THE

# HOLY BIBLE,

CONTAINING THE

# OLD AND NEW TESTAMENTS:

TRANSLATED INTO THE BURMESE

FROM

THE ORIGINAL TONGUES

By Rev. A. Judson, D. D.

3RD Edition—5000.

RANGOON:

PUBLISHED BY THE AMERICAN BAPTIST MISSIONARY UNION

AT THEIR MISSION PRESS.

F. D. PHINNEY, SUPT.

1891.

ဟေဗြဲ၊ ဟေလသဘာသာပါဠိတော်မှ မြန်မာဘာသာအားဖြင့်၊ ဆရာယုဒသန်

အနက်ပြန်၍ ပုံနှိပ်သော

# ဓမ္မဟောင်းကျမ်းနှင့် ဓမ္မသစ်ကျမ်း

ထည့်ယူသော

# ထာဝရဘုရား၏

# သမ္မာကျမ်း။



ရန်ကုန်မြို့

အရာမိနည်း ဗတ်တိဇ်သော အမေရိကန်သာသနာပြုအသင်း၏

ပုံနှိပ်တိုက်မှာ ရောင်းရန်ရှိသည်။

၁၈၉၁

## ဓမ္မဟောင်းကျမ်း ၃၉ ကျမ်းတို့၏အမည်နာမများ

# ကမ္ဘာဦးကျမ်း။

# GENESIS.

၁ အစအဦး၌ ဘုရားသခင်သည် ကောင်းကင်
၂ နှင့် မြေကြီးကို ဖန်ဆင်းတော်မူ၏။ မြေကြီး
သည် အဆင်းသဏ္ဌာန်မရှိ၊ လွတ်ဆိတ်ဆိတ်
ဖြစ်၏။ နက်နဲရာအရပ်ကို မှောင်မိုက်ဖုံးအုပ်၍
ဘုရားသခင်၏ ဝိညာဉ်တော်သည် ရေမျက်နှာ
ပြင်ပေါ်မှာလှုပ်ရှားတော်မူ၏။
၃ ဘုရားသခင်ကလည်း၊ အလင်းဖြစ်စေဟုအ
၄ မိန့်တော်ရှိ၍ အလင်းဖြစ်လေ၏။ ထိုအလင်း
ကောင်းသည်ကိုဘုရားသခင်မြင်၍၊ အလင်းနှင့်
၅ မှောင်မိုက်ကို ပိုင်းခြားခွဲထားတော်မူ၏။ အ
လင်းကိုနေ့ဟူသော အမည်ဖြင့်၎င်း၊ မှောင်မိုက်
ကိုညဉ့်ဟူသော အမည်ဖြင့်၎င်း၊ ခေါ်ဝေါ်သ
မုတ်တော်မူ၍၊ ညဦးနှင့် နံနက်သည် ပဌမ နေ့
ရက်ဖြစ်လေ၏။
၆ ထိုနောက် ဘုရားသခင်က၊ ရေအထက်၌ မိုဃ်း
မျက်နှာကြက်ဖြစ်စေ၊ ရေနှင့်ရေကိုခြားနားစေ
၇ ဟုအမိန့်တော်ရှိသဖြင့်၊ မိုဃ်းမျက်နှာကြက်
ကိုဘုရားသခင်ဖန်ဆင်းတော်မူ၍၊ မိုဃ်းမျက်
နှာကြက်အောက်၌ရှိသော ရေနှင့်၊ မိုဃ်းမျက်
နှာကြက်အပေါ်၌ရှိသောရေကိုပိုင်းခြားတော်
၈ မူသည်အတိုင်းဖြစ်လေ၏။ မိုဃ်းမျက်နှာကြက်
ကိုလည်း၊ မိုဃ်းကောင်းကင်ဟူသော အမည်
ဖြင့်ဘုရားသခင် ခေါ်ဝေါ်သမုတ်တော်မူ၍၊ ည
ဦးနှင့် နံနက်သည်ဒုတိယ နေ့ရက်ဖြစ်လေ၏။
၉ ထိုနောက် ဘုရားသခင်က၊ မိုဃ်းကောင်းကင်
အောက်၌ရှိသော ရေစုဝေးစေ၊ ကုန်းပေါ်စေဟု
၁၀ အမိန့်တော်ရှိသည်အတိုင်း ဖြစ်လေ၏။ ကုန်း
ကိုမြေဟူသော အမည်ဖြင့်၎င်း၊ ရေစုဝေးရာကို
ပင်လယ်ဟူသော အမည်ဖြင့်၎င်း၊ ဘုရားသခင်
ခေါ်ဝေါ်သမုတ်တော်မူ၍၊ ထိုအမှုအရာ
ကောင်းသည်ကိုဘုရားသခင်မြင်တော်မူ၏။
၁၁ ထိုနောက်ဘုရားသခင်က၊ မြေသည် မြက်ပင်ကို
၎င်း၊ စပါးစေ့ကို ဖြစ်စေသော စပါးပင်ကို၎င်း၊
မြေပေါ်မှာ မျိုးစေ့ပါလျက် သစ်သီးမျိုးကိုဖြစ်
စေသောသစ်ပင်ကို၎င်းပေါက်စေဟုအမိန့်တော်
၁၂ ရှိသည်အတိုင်းဖြစ်လေ၏။ မြေသည်မြက်ပင်
ကို၎င်း၊ စပါးစေ့ကိုဖြစ်စေသောစပါးပင်ကို
၎င်း၊ မိမိအမျိုးအစေ့ပါလျက်သစ်သီးမျိုးကိုဖြစ်စေ
၁၃ သောသစ်ပင်ကို၎င်းပေါက်စေ၏။ ထိုအမှုအရာ
ကောင်းသည်ကိုဘုရားသခင်မြင်တော်မူ၍၊ ည
ဦးနှင့် နံနက်သည်တတိယနေ့ရက်ဖြစ်လေ၏။
၁၄ ထိုနောက် ဘုရားသခင်က၊ နေ့နှင့် ညဉ့်ကိုပိုင်း
ခြားစေခြင်းငှါ မိုဃ်းကောင်းကင် မျက်နှာ
ကြက်၌ အလင်းအိမ်တည်စေ၊ နိမိတ်လက္ခဏာ
မှိန်းချက်သောအမှိန်၊ နေ့ရက်အပိုင်းအခြား
၁၅ နှစ်အပိုင်းအခြားအို့ဖြစ်စေ၊ မိုဃ်းကောင်းကင်
မျက်နှာကြက်၌ တည်၍ မြေကြီးထင်းစေရာ အ
လင်းအိမ်ဖြစ်စေဟု အမိန့်တော်ရှိသည့်အတိုင်း
ဖြစ်လေ၏။
၁၆ ထိုသို့ဘုရားသခင်သည်အလင်းအိမ်ကြီးနှစ်
လုံးတည်းဟူသော၊ နေ့ကိုအုပ်စိုးရသောအကြီး
တလုံး၊ ညဉ့်ကို အုပ်စိုးရသော အငယ်တလုံး
နှင့်တကွ ကြယ်များတို့ကို ဖန်ဆင်းတော်မူပြီး
၁၇ လျှင်၊ မြေကြီး၌ထင်းစေခြင်းငှါ၎င်း၊ နေ့နှင့်ညဉ့်
၁၈ ကိုအုပ်စိုး၍ အလင်းနှင့်မှောင်မိုက်ကို ပိုင်းခြား
စေခြင်းငှါ၎င်း၊ မိုဃ်းကောင်းကင်မျက်နှာကြက်
၌ ဘုရားသခင် ထားတော်မူ၏။ ထို အမှု အရာ
ကောင်းသည်ကို ဘုရားသခင် မြင်တော်မူ၍၊
၁၉ ညဦးနှင့်နံနက်သည် စတုတ္ထနေ့ရက်ဖြစ်လေ၏။
၂၀ ထိုနောက် ဘုရားသခင်က၊ အသက်ရှင်၍ လှုပ်
ရှားတတ်သောတိရစ္ဆာန်တို့ကို ရေသည်များပြား
စွာ မွေးဖွားစေ၊ ငှက်တို့သည်၊ မြေ ပေါ်မိုဃ်း
ကောင်းကင် မျက်နှာကြက်ပြင်ဝယ် ပျံစေဟုအ
၂၁ မိန့်တော်ရှိ၏။ ထိုသို့လျှင် ရေသည် တိရစ္ဆာန်
အမျိုးအလိုက်များပြားစွာ မွေးဖွား၍၊ ငါးကြီး
အစရှိသော၊ အသက်ရှင်၍လှုပ်ရှားတတ်သော
တိရစ္ဆာန် အပေါင်းတို့ကို၎င်း၊ ပျံတတ် သော
ငှက်မျိုး အပေါင်းတို့ကို၎င်း ဘုရားသခင်ဖန်
ဆင်း၍၊ ထိုအမှုအရာကောင်းသည်ကိုမြင်တော်
၂၂ မူ၏။ ဘုရားသခင်ကလည်း၊ များပြားပွားစီး

A

ရှင်ကြသော၊ ပင်လယ်ရေရှားကို ပြည့်စေကြ
သော၊ ငှက်တို့သည်၊ မြေပေါ်၌ များပြားစေသ
တည်းဟူ၍၊ ထိုတိရိစ္ဆာန်တို့ကို ကောင်းကြီးပေး
၂၃ တော်မူ၏။ ညဦးနှင့်နံနက်သည် ပဉ္စမနေ့ရက်
ဖြစ်သတည်း။
၂၄ တဖန် ဘုရားသခင်က၊ မြေသည်အသက်ရှင်
သော သတ္တဝါမျိုး၊ တည်းဟူသော သားယဉ်
တို့ကိုငှင်၊ တွားတတ်သော တိရိစ္ဆာန်တို့ကိုငှင်၊
သားရဲမျိုးတို့ကိုငှင် ဖွားမြင်စေဟု အမိန့်တော်
၂၅ ရှိသည့်အတိုင်းဖြစ်လေ၏။- ထိုသို့ဘုရားသခင်
သည် သားရဲမျိုး၊ သားယဉ်မျိုး၊ မြေ ပေါ်မှာ
တွားတတ်သော တိရိစ္ဆာန်မျိုး အပေါင်းတို့ကို
ဖန်ဆင်း၍၊ ထိုအမှုအရာ ကောင်းသည်ကိုမြင်
တော်မူ၏။
၂၆ တဖန်ဘုရားသခင်က၊ ငါတို့ပုံသဏ္ဌာန်နှင့်တ
ညီ ငါ့သဏ္ဌာန်တည်း လူကိုဖန်ဆင်းကြစို့၊ သူ
သည်ပင်လယ်ငါးတို့ကိုငှင်၊ မိုဃ်းကောင်းကင်
ငှက်တို့ကိုငှင်၊ သားယဉ်တို့ကိုငှင်၊ မြေတပြင်
လုံးနှင့် တကွ၊ မြေပေါ်မှာတွားတတ်သော တိ
ရိစ္ဆာန်အပေါင်းတို့ကိုငှင် အုပ်စိုးစေဟု အမိန့်
၂၇ တော်ရှိ၏။- ထို သို့ ဘုရား သခင် သည် မိမိ ပုံ
သဏ္ဌာန်နှင့်အညီလူကိုဖန်ဆင်းတော်မူ၏၊ဘုရား
သခင်၏ပုံသဏ္ဌာန်တော်နှင့်အညီလူယောက်ျား၊
၂၈ လူမိန်းမကိုဖန်ဆင်းပြီးလျှင်၊-အချင်းတို့၊များပြား
စွာအဆွေးပွားကြလော့၊မြေကြီးကို ပြည့်စေ၍ နိုင်
ကြလော့၊ပင်လယ်ငါးတို့ကိုငှင်၊ မိုဃ်းကောင်း
ကင် ငှက်တို့ ကိုငှင်၊ အသက်ရှင်၍ မြေပေါ်မှာ
ရှုပ်ရှားတတ်သော တိရိစ္ဆာန် အပေါင်းတို့ကို
ငှင် အုပ်စိုးကြလော့ဟုအမိန့်တော်မူ၍၊ သူတို့ကို
ကောင်းကြီးပေးတော်မူ၏။
၂၉ ဘုရားသခင်ကလည်း၊ကြည့်ရှုလော့၊ မြေတ
ပြင်လုံး၌ စပါးသီးကို ဖြစ်စေသော စပါးပင်အ
မျိုးမျိုး၊တို့ကိုငှင်၊ မျိုးစေ့ကို ဖြစ်စေသော အသီး
နှင့် ပြည့်စုံသော သစ်ပင် အမျိုးမျိုး တို့ကို ငှင်၊
၃၀ သင်တို့ စားစရာအိုင်ငါပေး၏။- မြေသား၊ မိုဃ်း
ကောင်းကင်ငှက်၊အသက်ရှင်၍မြေပေါ်မှာတွား
တတ်သော တိရိစ္ဆာန်မျိုးအပေါင်းတို့ စားစရာ
ထို့၊ မြက်ပင် အမျိုးမျိုးတို့ကိုငါပေး၏ဟု၊ မိန့်
၃၁ တော်မူသည့်အတိုင်းဖြစ်လေ၏။- ဘုရားသခင်
သည် မိမိဖန်ဆင်းသမျှသောအရာတို့ကိုကြည့်
ရှုလျှင်၊ အလွန်ကောင်းသည်ကို မြင်တော်မူ၍၊
ညဦးနှင့်နံနက်သည်ဆဋ္ဌမနေ့ရက်ဖြစ်လေ၏။

၂

၁ ထိုသို့ကောင်းကင်မြေကြီးနှင့်တကွ၊ခပ်သိမ်း
သော တန်ဆာ တို့သည် ပြီးစီးလျက် ရှိကြ၏။-
၂ သတ္တမနေ့ရက်ရောက်လျှင်၊ ဘုရားသခင်သည်
ဖန်ဆင်းသောအမှုကို ထက်စသတ် တော်မူပြီး
သည်ဖြစ်၍၊ ဖန်ဆင်းသမျှသော အမှုအရာတို့
သည်ပြီးစီးပြီးမှ၊ ထိုသတ္တမနေ့၌ငြိမ်ဝပ်စွာနေ
၃ တော်မူ၏။- ထိုသတ္တမနေ့ကိုဘုရားသခင်သည်
ကောင်းကြီး ပေး၍ သန့်ရှင်း စေတော်မူ၏၊ အ
ကြောင်းမူကား၊ ဖန်ဆင်း ပြုပြင်တော်မူသောအ
မှုအရာ အလုံးစုံ တို့သည် ပြီးစီး သော့ကြောင့်၊
ထိုနေ့ရက်၌ ငြိမ်ဝပ်စွာနေတော်မူ၏။
၄ ဤအကြောင်းအရာကား၊ယေဝရအရှင်ဘုရား
သခင်သည်ကောင်းကင်နှင့်မြေကြီးကိုဖန်ဆင်း
တော် မူ သောနေ့၊ ဖန်ဆင်းရာကာလ၌ကောင်း
၅ ကင်နှင့်မြေကြီး၏မူလအစ ဖြစ်ပေတည်း။-မြေ
၌ ထယ် ယာ ပျိုးပင် မပေါက် မှီ၊ ထယ် ယာ၌
စပါးပင် မကြီး ပွားမှီ၊ အပင် ရှိသမျှတို့ကို ဖန်
ဆင်းတော်မူ၏။ ထို အခါ ယေဝရ အရှင်ဘုရား
သခင်သည် မြေပေါ်၌ မိုဃ်းကို ရွာစေတော်မ
မူသေး။ မြေ၌လုပ်သောလူလည်း မရှိသေးသည်
၆ ဖြစ်၍၊- မြေမှအခိုး အငွေ့ထွက်သဖြင့်၊ မြေတ
ပြင်လုံးကိုစိုစေလေ၏။
၇ ထိုနောက်၊ ယေဝရ အရှင်ဘုရားသခင် သည်
မြေမှုန့်ဖြင့်လူကိုဖန်ဆင်း၍၊ သူ၏ နှာခေါင်းထဲ
သို့ဇီဝ အသက်ကို မှုတ်တော် မူလျှင်၊ လူသည်
အသက်ရှင်သောသတ္တဝါဖြစ်လေ၏။
၈ ယေဝရအရှင် ဘုရားသခင် သည်လည်း အ
ရှေ့ဘက်နှာ၊ ဧဒင်အရပ်၌ ဥယျာဉ်ကို စိုက်ပျိုး
ပြီးလျှင်၊ဖန်ဆင်းတော်မူသောလူကို ထိုဥယျာဉ်
၉ ၌နေရာချတော်မူ၏။- ထိုမြေထဲကအဆင်းလှ၍၊
စားဘွယ်ကောင်းသောအပင်အမျိုးမျိုးကို ယေ
ဝရအရှင်ဘုရားသခင် ပေါက်စေတော်မူ၏၊ ထို
ဥယျာဉ်အထယ်၌အသက်ပင်ထဉ်၊ မှို၏ကောင်း
မကောင်းကိုသိကျွမ်းရာအပင်လည်း ရှိ၏။
၁၀ ထိုဥယျာဉ်ကိုစိုစေလိုသော ငှါမြစ်တမြစ်သည်
ဧဒင်အရပ်ထဲက စီးထွက်သဖြင့်၊ ဥယျာဉ်ပြင်မှာ
၁၁ ဝေးဖြာကွဲ၍မြစ်မလေးသွယ်ဖြစ်လေ၏။- ပထ
မမြစ်ကား၊ ဖိရှုန်အမည်ရှိ၏၊ ထိုမြစ်သည် ရွှေရှိ
သော ဟာဝိလ ပြည်နား၊ တရှောက် လုံး ကို စီး
၁၂ သွားလေ၏။- ထိုပြည်မှ ဖြစ် သော ရွှေ သည်
ကောင်း၏၊ ဗဒေလသစ်စေးနှင့်ရှတ်ကျောက်

၁၃ သည်းရှိ၏- ဒုတိယမြစ်ကား ဂိဟုန်အမည် ရှိ
၏။ ထိုမြစ်သည် ကုရှပြည်နှင့်အ လျှောက်လုံးကို
၁၄ စီးသွားလေ၏- တတိယ မြစ်ကားဟိဒ္ဒေကလ
အမည်ရှိ၏။ ထိုမြစ်သည်အာရှုရိပြည်အရှေ့သို့
စီးသွားလေ၏။ စတုတ္ထမြစ်ကားဥဖရတ်အမည်
ရှိ၏။
၁၅ ထိုအခါ ထာဝရအရှင် ဘုရားသခင်သည် လူ
ကိုယူ၍ ဧဒင်ဥယျာဉ်ကို ပြုစုစောင့်နေ စေခြင်းငှါ
၁၆ ထားတော်မူ၏- ထာဝရ အရှင် ဘုရား သခင်
သည်လည်း၊ ကောင်း၊ မကောင်း၊ ကို သိ ခြင်း ရာ
အပင်မှတပါး၊ ဥယျာဉ်၌ ရှိသမျှသောအပင်
တို့၏အသီးကို သင်သည် စားရသောအခွင့် ရှိ၏-
၁၇ ထိုအပင်၏ အသီးကိုကား မစားရ။ စားသောနေ့
တွင် ကေန် အမှန် သေရမည်ဟု လူကို ပညတ်
ထားတော်မူ၏။
၁၈ ထာဝရ အရှင် ဘုရား သခင် ကလည်း၊
လူသည်တယောက်တည်း နေရ မကောင်း၊
သူနှင့် တော်သော အထောက်အမကို လုပ်မည် ငါ
၁၉ လုပ်ဦးမည်ဟု မိန့်တော်မူ၏- ထာဝရအ
ရှင် ဘုရားသခင် သည် မြေ ထဲမှ သားရဲ နှင့်၊
မိုးကောင်းကင်၌ ပျံသော ငှက် အပေါင်းတို့ကို မြေဖြင့်
ဖန်ဆင်း တော်မူပြီးလျှင်၊ လူသည် အဘယ်သို့
ခေါ်ဝေါ်သမုတ်မည်ကို သိခြင်းငှါ၊ လူရှိရာသို့
ဆောင်ခဲ့တော်မူ၏၊ လူသည်လည်း၊ အသက်ရှင်
သောသတ္တဝါ အပေါင်းတို့ကို ခေါ်ဝေါ်သမုတ်
သည်အတိုင်း၊ နာမည် အသီးအသီး ရှိကြ၏-
၂၀ ထိုသို့ လူသည်ယဉ်ကျေးသည့် အပေါင်းတို့ကို၎င်း၊
မိုးကောင်းကင် ၌ ပျံသော အပေါင်းတို့ ကို၎င်း၊
တောသားရဲ အပေါင်းတို့ကို၎င်း၊ အမည်ပေး၍ မှည့်
လေ၏။ သို့သော်လည်း၊ လူ နှင့် တော်သော အ
ထောက်အမမပေါ်မရှိသေး။
၂၁ ထိုအခါ ထာဝရအရှင် ဘုရားသခင်သည် လူ
ကို ကြီးသော အိပ်ပျော်ခြင်းဖြင့် အိပ်စေ တော်မူ၍၊
လူသည်အိပ်ပျော်စဉ်၊ နံရိုးတချောင်းကို ဘုရား
သခင်ထုတ်ပြီးလျှင်၊ ထိုအရိုးအစား အသားကို
၂၂ ဖြည့်ပေးတော်မူ၏- ထာဝရ အရှင် ဘုရားသ
ခင်သည်လူထဲက ထုတ်သော နံရိုးဖြင့်လူမိန်းမကို
ဖန်ဆင်း၍ လူရှိရာသို့ ဆောင်ခဲ့တော်မူ၏- လူ
ကလည်း၊ ယခု၌သူသည် ငါ့အရိုးထဲက အရိုး၊
ငါ့အသားထဲက အသား ဖြစ်၏၊ သူ့ထဲက ထုတ်
သောကြောင့်သူ့ကို လူမိန်းမဟုခေါ်ဝေါ်ခြင်းအမည်
၂၄ ရထိုက်သတည်း- ထိုအကြောင်းကြောင့်ယောက်ျား

သည် ကိုယ်မိဘကိုစွန့်၍၊ ကိုယ်မယားနှင့် မှီဝဲ
သဖြင့်၊ ထိုသူထိုသည် တသားတကိုယ်တည်း
၂၅ ဖြစ်ရလိမ့်မည်။- ထိုသူ လင်မယား နှစ်ဦး တို့
သည်အဝတ်မဝတ်ဘဲနေ၍၊ ရှက်ကြောက်ခြင်း
နှင့်ကင်းလွတ်ကြ၏။

၃

၁ မြွေသည်ထာဝရအရှင်ဘုရားသခင်ဖန်ဆင်း
တော်မူသောမြေ တိရစ္ဆာန်တကာတို့ထက်သာ
သည်ဖြစ်၍၊ မိန်းမအား၊ သင်တို့သည်ဥယျာဉ်၌ရှိ
သမျှသောအပင်တို့၏အသီးကိုမစားရဟုဘုရား
သခင် ဘုရားသခင် မိန့်တော်မူ သလောဟုဆို
၂ ၏- မိန်းမကလည်း၊ ငါတို့သည်ဥယျာဉ်၌ရှိသော
၃ အပင်တို့၏အသီးကို စားရသောအခွင့်ရှိ၏- ဥ
ယျာဉ်အလယ်၌ရှိသောအပင်၏အသီးကိုကား
သင်တို့သည် မကိုင်မစားရ၊ ရသော်၊ ထိုမ
ထုတ်၊ သေမည်ဟုဘုရားသခင် အမိန့်တော်ရှိ
၄ သည်ဟုမြွေအားဆို၏- မြွေကလည်း၊ သင်တို့
သည် ကေန်အမှန် သေရမည် မဟုတ်။ အ
ကြောင်းမူကား၊ ထိုအသီးကို စားသောနေ့၌သင်
တို့သည် မျက်စိပွင့်လင်း၍ ကောင်းမကောင်းကို
သိ၍၊ ဘုရားသခင်ကဲ့သို့ဖြစ်ကြလတံ့သည်
ကို ဘုရားသခင်သိတော်မူသည်ဟု မိန်းမအားဆို
၆ ၏- ထိုအပင်သည် စားဖွယ်ကောင်းခြင်း၊ အ
ဆင်းလည်းလှခြင်း၊ ပညာတိုးပွားစေတတ်သော
ဝါ၊ နှစ်သက် ဖွယ်သော အပင် ဖြစ်ခြင်းကို မိန်း
မသည်မြင်လျှင်၊ အသီးကိုယူ၍စား၏။ မိမိခင်ပွန်း
အားလည်းပေး၍ လင်သည်လည်းစား၏- ထိုသူ
နှစ်ယောက်တို့သည်မျက်စိပွင့်လင်း၍၊ မိမိတို့၌
အဝတ်အချည်းစည်းရှိသည်ကိုသိမြင်လျှင်၊ မိမိ
တို့ဝတ်ရန် သင်္ဘောသဖန်းပင်အရွက်တို့ကို
ချုပ်စပ်၍ခါးစည်းကိုလုပ်ကြ၏။
၈ နေ့သောအချိန်တွင်၊ ထိုဥယျာဉ်၌ထာဝရအ
ရှင်ဘုရားသခင်ကြွတော်မူသောအသံကိုလူတို့
ကြားလျှင်၊ အထံတော်မှ ရှောင်
ခြင်းငှါ၊ ဥယျာဉ်အပင်တို့တွင် ပုန်းကွယ်လျက်
၉ ရကြ၏- ထာဝရအရှင်ဘုရားသခင်ကလည်း
ခေါ်၍ သင်သည် အဘယ်မှာ ရှိသနည်းဟု လူကိုခေါ်
တော်မူ၏၊-လူကလည်း၊ဥယျာဉ်၌ကိုယ်တော်၏
အသံကို ကြားတော်ကြားလျှင်၊ အဝတ်အချည်း
စည်းရှိသောကြောင့်၊ ကြောက်၍ပုန်းလျက်နေ
၁၀ ပါသည်ဟု လျှောက်လေ၏- ဘုရားသခင်က
သင်သည် အဝတ်အချည်းစည်း ရှိသည်ကို

သင်အား အဘယ်သူပြောသနည်း။ မစားရဟု
ငါပညတ်သော အပင်၏ အသီးကို စားပြီလော
၁၂ ဟုမေးတော်မူ၏။-လူကလည်း၊ ကျွန်တော်၌အပ်
ပေးတော်မူသောမိန်းမသည် ထိုအပင်၏အသီးကို
ပေး၍ ကျွန်တော်စားမိပါသည်ဟုလျှောက်လေ
၁၃ ၏။- ထာဝရအရှင် ဘုရားသခင်ကလည်း၊ သင်
သည်အဘယ်သို့ပြုပြီးသနည်းဟု မိန်းမအားမေး
တော်မူလျှင်၊ မိန်းမက၊ မြွေသည် ကျွန်တော်မကို
လှည့်စား၍၊ ကျွန်တော်မသည်စားမိပါပြီးဟု
လျှောက်လေ၏။
၁၄ ထာဝရအရှင်ဘုရားသခင်သည်မြွေကိုခေါ်၍
သင်သည်ဤအမှုကိုပြုသောကြောင့်၊သားယဉ်၊
သားရဲ အပေါင်းတို့ထက် ကျိန်ခြင်းကိုခံရ၏။
သင်သည် ဝမ်းဖြင့် သွား၍ မြေမှုန့်ကို တသက်
၁၅ လုံးစားရမည်။- သင်နှင့်မိန်းမကိုငှင်၊သင်၏အမျိုး
အနွယ်နှင့်မိန်းမ၏အမျိုးအနွယ်ကိုငှင်၊ ငါသည်
ရန်ငြိုးဖွဲ့စေမည်၊သူသည်သင်၏ခေါင်းကိုကြိတ်
လိမ့်မည်၊ သင်သည်သူ၏ဖနောင့်ကိုကြိတ်လိမ့်
မည်ဟုမိန့်တော်မူ၏။
၁၆ မိန်းမကိုလည်း၊ သင်၌ကိုယ်ဝန်ဆောင်ခြင်းဝေ
ဒနာကို ငါအလွန်များပြားစေမည်။ ပင်ပန်းစွာ
ဝေဒနာကိုခံ၍ သားဖွားရမည်။ ကိုယ်ခင်ပွန်း
၏အလိုသို့လိုက်၍၊သူ၏အုပ်စိုးခြင်းကိုလည်းခံ
၁၇ ရမည်ဟုမိန့်တော်မူ၏။- ယောက်ျားကိုလည်း၊
ထိုအပင်၏အသီးကို မစားရဟုငါပညတ်သော်
လည်း၊ သင်သည်မယား၏စကားကိုနားထောင်
၍စားမိသောကြောင့်၊ မြေသည် သင်၏ အတွက်
ကျိန်ခြင်းကို ခံလျက်ရှိ၏။ မြေ၏ အသီး ကို တ
၁၈ သက်ပတ်လုံးပင်ပန်းစွာစားရမည်။- ဆူးပင်အ
မျိုးမျိုးတို့ကိုလည်း၊ သင်အဖို့မြေပေါက်စေမည်။
လယ်၌ဖြစ်သောဟင်းသီး ဟင်းရွက်တို့ကိုသင်
၁၉ စားရမည်။- သင်ထွက်ရာမြေသို့ မပြန်မှီ တိုင်
အောင်၊ သင်၏မျက်နှာမှချွေးထွက်လျက် အစာ
ကိုစားရမည်။ အကြောင်းမူကား၊သင်သည်မြေ
မှုန့်ဖြစ်၍၊မြေမှုန့်သို့ပြန်ရမည်ဟုမိန့်တော်မူ၏။
၂၀ ထိုအခါလူသည်မိမိမယားကို၊ဧဝအမည်ဖြင့်
မှည့်လေ၏။အကြောင်းမူကား၊သူသည်အသက်
ရှင်သောသူအပေါင်းတို့၏အမိဖြစ်သတည်း။
၂၁ ထာဝရအရှင် ဘုရားသခင် သည်လည်း၊ လူ
ထင်မယားတို့ သားရေဖြင့် ဝတ်လုံကို လုပ်၍
ဝတ်ချုံစေတော်မူ၏။
၂၂ ထာဝရအရှင် ဘုရားသခင် ကလည်း၊ လူ
သည်ငါတို့တွင်တပါးပါးကဲ့သို့ဖြစ်၍၊ကောင်းမ
ကောင်းကိုသိတတ်၏။ ယခုမှာသူသည် ထာဝရ
အသက်ကို ရခြင်းငှါ၊ လက်ကို ဆန့် လျက် အ
သက်ပင်၏အသီးကိုယူ၍ မစားသင့်ဟုမိန့်တော်
၂၃ မူ၍၊- လူသည်မိမိထွက်သောမြေ၌ လုပ်ရမည်
အကြောင်း၊ ထာဝရအရှင် ဘုရား သခင်သည်၊
၂၄ ဧဒင်ဥယျာဉ်ထဲကနှင်ထုတ်လိုက်တော်မူ၏။-ထိုသို့
လူကို နှင်ထုတ်ပြီးလျှင်၊ အသက်ပင် ထမ်းကို
စောင့်ရှောက်စေခြင်းငှါ၊မီးစက်ထက်နက် နှင့်တ
ကွ ခေရုဗိမ် တို့ကို ဥယျာဉ် အရှေ့ဘက်၌ ထား
တော်မူ၏။

၄

၁ ထိုနောက်၊ လူအာဒံသည်မယားဧဝနှင့်ဆက်
ဆံသဖြင့်၊ဧဝသည်ပဋိသန္ဓေစွဲယူ၍၊ကာဣနကို
ဖွားမြင်လျှင်၊ ထာဝရ ဘုရား၏လူကို ငါရပြီဟု
၂ ဆိုလေ၏။- တဖန်သူညီ အာဗေလ ကို ဖွားမြင်
လေ၏။ အာဗေလကားသိုးထိန်းဖြစ်၏။ ကာဣန
၃ ကားလယ်လုပ်သောသူဖြစ်၏။- အချိန်ရောက်သော
အခါ၊ ကာဣနသည်ထာဝရဘုရားထံပူဇော်သ
၄ ကာဖို့၊ မြေအသီးကို ဆောင်ခဲ့၏။- အာဗေလ
သည်လည်း၊ မိမိသိုးစုတွင် အဦးဖွားသောသား
အဆီနှင့်၊သိုးဆီဥကိုဆောင်ခဲ့၏။ထာဝရဘုရား
သည်အာဗေလနှင့် သူ၏ပူဇော်သကာကို ပမာ
၅ ဏပြုတော်မူ၏။-ကာဣနနှင့်သူ၏ပူဇော်သကာ
ကိုပမာဏပြုတော်မမူ။ ထိုကြောင့်ကာဣနသည်
အလွန်မိတ်ဆိုး၍မျက်နှာပျက်လေ၏။-ထာဝရ
ဘုရားကလည်း၊သင်သည်အဘယ်ကြောင့်မိတ်
ဆိုးသနည်း။ အဘယ်ကြောင့် မျက်နှာ ပျက်သ
၇ နည်း။-သင်သည်ကောင်းမွန်စွာပြုလျှင်အခွင့်မ
ရသလော၊ကောင်းမွန်စွာမပြုလျှင်၊အပြစ်ဖြေသော
ယဇ်ကောင်သည်တံခါးနားမှာဝပ်လျက်ရှိ၏။သူ
သည် သင်၏အလိုသို့ လိုက်၍၊ သင်သည် သူကို
အုပ်စိုးရ၏ဟုကာဣနကိုမိန့်တော်မူ၏။
၈ ကာဣနကလည်း၊ လယ်သို့သွားကြကုန်စို့ဟု
ညီအာဗေလကို ခေါ်၍၊ လယ်သို့ ရောက်သော
အခါ၊ ညီအာဗေလကိုရန်ဖက်ပြု၍ သတ်လေ
၉ ၏။ ထာဝရဘုရားကလည်း၊သင့်ညီအာဗေလ
သည်အဘယ်မှာ ရှိသနည်းဟု၊ ကာဣနကိုမေး
တော်မူလျှင်၊အကျွန်ုပ်မသိပါ။အကျွန်ုပ်သည်ညီ
ကိုစောင့်ရသောသူ ဖြစ်ပါသလောဟု လျှောက်
၁၀ ဆို၏။-ဘုရားသခင်ကလည်း၊သင်သည်အဘယ်
သို့ပြုပြီးသနည်း။ သင့်ညီအသွေး၏ အသံသည်

မြေထဲကငါ့ကိုအော်ဟစ်လျက်ရှိသည်တကား။-
၁၁ ယခုမှစ၍ သင့်ညီ၏အသွေးကို ခံယူခြင်းငှါ၊ မိမိ
ပါးစပ်ကိုဖွင့်သော မြေကြီး၏ ကျိန်ခြင်းကို သင်
၁၂ သည် ခံရသောကြောင့်၊- ထယ်ထိုး၍ မြေကိုလုပ်
သောအခါ ပကတိအတိုင်းအသီးအနှံကိုမရရ၊
မြေကြီးပေါ်မှာ ပြေးရသောသူ၊ အရပ်ရပ်သည်
၁၃ ရသောသူဖြစ်ရလိမ့်မည်ဟုမိန့်တော်မူ၏။-ကာ
ဣနကလည်း၊ အကျွန်ုပ် အပြစ်သည် မခံနိုင်
အောင်ကြီးပါသတော။- အကျွန်ုပ်ကို မြေကြီး
ပြင်မှ ယနေ့နှင်ထုတ်တော်မူပြီ၊ မျက်နှာတော်ကို
လည်းမမြင်ရ၊ မြေကြီး ပေါ်မှာ ပြေးရသောသူ၊
အရပ်ရပ်သည်ရသောသူဖြစ်ပါရမည်၊ တွေ့သ
မျှသော သူတို့သည် အကျွန်ုပ်ကို သတ်ပါ လိမ့်
၁၅ မည်ဟု၊ ထာဝရဘုရားကိုလျှောက်ဆို၏။- ထာ
ဝရဘုရားကလည်း၊ သို့ဖြစ်၍ ကာဣနကိုသတ်
သောသူ မည်သည်ကား၊ ခုနစ်ဆသော အပြစ်
ဒဏ်ကို ခံရလိမ့် မည်ဟု မိန့်တော်မူ ပြီးလျှင်၊
ကာဣနကို တွေ့သောသူ တစုံတယောက် မျှမ
သတ်စေခြင်းငှါ၊ ထာဝရဘုရားသည် သူ၌အမှတ်
ပေးတော်မူ၏။
၁၆ ကာဣနသည်၊ ထာဝရဘုရားထံတော်မှ ထွက်
သွား၍၊ ဧဒင်ပြည်အရှေ့၊ နောဒပြည်တွင်နေသ
၁၇ ၏။-ထိုအခါကာဣနသည်မိမိမယားနှင့်ဆက်ဆံ
ပြင်၊သူသည်ပဋိသန္ဓေစွဲယူ၍၊ သားဧနောက်
ကိုဖွားမြင် လေ၏၊ ကာဣန သည်လည်း၊ မြို့ကို
တည်၍၊ မိမိသား၏ အမည်အတိုင်း၊ ထိုမြို့ကို
၁၈ ဧနောက်မြို့ဟု သမုတ် လေ၏။- ဧနောက် သား
ကား ဣရဒ်၊ ဣရဒ်သားကား၊ မဟုယေလ၊ မဟု
ယေလသားကား၊ မသုရှေလ၊ မသုရှေလသားကား၊
လာမက်တည်း။
၁၉ လာမက်သည်၊ အာဒနှင့်ဇိလ္လအမည်ရှိသော
၂၀ မိန်းမနှစ်ယောက်နှင့်ထိမ်းမြားလက်ထပ်၍၊-အာဒ
သည်သားယာဗလကို ဖွားမြင်လေ၏၊ ထိုသား
ကား၊ တဲ၌နေသောသူ၊ သိုးနွားစသည်တို့ကိုမွေး
၂၁ သောသူတို့၏ အစအဆက်ဖြစ်လေသတည်း။-ယုဗ
လအမည်ရှိသော ညီရှိ၏။ စောင်းမျိုး၊ နှဲခရာ
မျိုးတို့ကို တီးမှုတ်တတ်သောသူ အပေါင်းတို့၏
၂၂ အစအဆက်ဖြစ်လေသတည်း။- ဇိလ္လသည်လည်း၊
တုဗလ ကာဣနကိုဖွားမြင်လေ၏၊ ထိုသူသည်
ပန်းတည်းသမား၊ ပန်းပဲသမား၊ အပေါင်းတို့၏
ဆရာဖြစ်လေ၏၊ တုဗလ ကာဣန၏နှမကား၊
၂၃ နာမ အမည်ရှိ၏။- လာမက်ကလည်း၊ အာဒနှင့်
ဇိလ္လ၊ ငါပြောသံကို နားထောင်ကြလော့၊ လာမက်၏
မယားတို့၊ ငါ့စကားကို နားထောင်ကြလော့၊ ငါ့ကို
ထိခိုက်သော လူတယောက် တည်း၊ ဒဏ်သော
ငါ့ကို ဖြည့်၊ ဆဲသော လူပျို တယောက်ကို ငါ
၂၄ သတ်ပြီ။- ကာဣနသည် ခုနစ်ဆသောတရားကို
ရလျှင်၊ လာမက်၌ ထားမည်သည်၊ အဆခုနစ်
ဆယ် ခုနစ်ဆသောတရားကိုရလိမ့်မည်ဟုမိမိ
မယားတို့ကို ပြောဆို၏။
၂၅ အာဒံသည်လည်း၊ မိမိမယားနှင့် တဖန်ဆက်
ဆံပြန်လျှင်၊ မယားသည်သားကို ဖွားမြင်၍ ရှေ
ဟူသောအမည်ဖြင့်မှည့်လေ၏။ အကြောင်းမူ
ကား၊ ကာဣနသတ်သော အာဗေလကိုယ်စား
တပါးသောအနွယ်ကို၊ အကျွန်ုပ်အဘို့ ဘုရားသ
၂၆ ခင်ခန့်ထား တော်မူပြီဟု ဆိုသတည်း။- ရှေသ
သည်လည်း၊ သားကိုရ၍ ဧနုတ်ဟူသောအမည်
ဖြင့် မှည့်လေ၏။ ထိုကာလ၌၊ ထာဝရဘုရား၏
နာမတော်ကို အမှီပြု၍ ကိုးကွယ်စပြုကြလေ၏။

## ၅

၁ အာဒံ၏သားမြေးဆက်စာရင်းဟူမူကား၊
လူကို ဖန်ဆင်း တော်မူ သော ကာလ၌၊ မိမိပုံ
သဏ္ဌာန်နှင့်အညီ၊ ဘုရားသခင်ဖန်ဆင်းတော်မူ
၂ ၏။- လူ ယောက်ျား၊ လူ မိန်းမ ကို ဖန် ဆင်း ၍၊
ကောင်းကြီး ပေးတော်မူ၏။ ဖန်ဆင်းတော်မူ၌
လည်း၊ သူတို့ကိုအာဒံအမည်ဖြင့်မှည့်တော်မူ၏။
အာဒံသည် အသက်တရာသုံးဆယ် ရှိသော်၊
မိမိပုံသဏ္ဌာန်နှင့်တညီ တသဏ္ဌာန်တည်းသော သား
၄ ကိုမြင်ရ၍ ရှေသအမည်ဖြင့်မှည့်လေ၏။-ရှေသ
ကိုဖွားမြင်သောနောက်၊ အာဒံသည် အနှစ်ရှစ်ရာ
၅ အသက်ရှင်၍၊ သားသမီးများကိုမြင်လေ၏။-အာ
ဒံသည် အသက်နှစ်ပေါင်း ကိုးရာသုံးဆယ် ရှိ
သော်သေလေ၏။
၆ ရှေသသည် အသက် တရာ ငါးနှစ် ရှိသော်၊
၇ သားဧနုတ်ကိုမြင်လေ၏။- ဧနုတ်ဖွားမြင်သော
နောက်၊ ရှေသသည် အနှစ်ရှစ်ရာ ခုနစ် နှစ် အ
၈ သက်ရှင်၍၊ သားသမီးများကိုမြင်လေ၏။- ရှေသ
သည်အသက်နှစ်ပေါင်းကိုးရာ တဆယ်နှစ်နှစ်
ရှိသော်သေလေ၏။
၉ ဧနုတ်သည်အသက်ကိုးဆယ်ရှိသော်၊ သား
၁၀ ကာဣနန်ကို မြင်လေ၏။- ကာဣနန် ဖွားမြင်
သောနောက်၊ ဧနုတ်သည်အနှစ် ရှစ်ရာတဆယ့်
ငါးနှစ်အသက်ရှင်၍၊ သားသမီးများကိုမြင်လေ

၁၁ ၏– ဧနုတ်သည် အသက်နှစ်ပေါင်းကိုးရာ ငါး
နှစ်ရှိသော် သေလေ၏။
၁၂ ကာဣနန်သည်၊ အသက်ခုနှစ်ဆယ် ရှိသော်၊
၁၃ သားမဟာလေလကို မြင်လေ၏၊–မဟာလေလ
ဖွားမြင်သောနောက်၊ ကာဣနန်သည်အနှစ်ရှစ်
ရာလေးဆယ် အသက်ရှင်၍၊ သားသမီးများကို
၁၄ မြင်လေ၏။– ကာဣနန်သည်၊အသက်နှစ်ပေါင်း
ကိုးရာတဆယ်ရှိသော်သေလေ၏။
၁၅ မဟာလေလသည်၊ အသက် ခြောက်ဆယ်
ငါးနှစ် ရှိသော်၊ သားယာရက်ကို မြင်လေ၏။–
၁၆ ယာရက် ဖွားမြင် သောနောက်၊ မဟာ လေလ
သည်၊အနှစ်ရှစ်ရာသုံးဆယ်အသက်ရှင်၍သား
၁၇ သမီးများကို မြင်လေ၏။– မဟာလေလသည် အ
သက်နှစ်ပေါင်းရှစ်ရာကိုးဆယ်ငါးနှစ်ရှိသော်
သေလေ၏။
၁၈ ယာရက်သည်၊ အသက်တရာ ခြောက်ဆယ်
၁၉ နှစ်နှစ်ရှိသော်၊ သားဧနောက်ကိုမြင်လေ၏။– ဧ
နောက်ဖွားမြင်သောနောက်၊ ယာရက်သည် အ
နှစ်ရှစ်ရာ အသက်ရှင်၍၊ သားသမီးများကို မြင်
၂၀ လေ၏။– ယာရက်သည်အသက်နှစ်ပေါင်းကိုး
ရာခြောက်ဆယ်နှစ်နှစ်ရှိသော် သေလေ၏။
၂၁ ဧနောက်သည်အသက်ခြောက်ဆယ် ငါးနှစ်
၂၂ ရှိသော်၊သားမသုရှလကိုမြင်လေ၏၊–မသုရှလ
ဖွားမြင်သောနောက်၊ ဧနောက်သည်အနှစ်သုံး
ရာပတ်လုံး ဘုရား သခင်နှင့် အတူ သွားလာ၍၊
၂၃ သားသမီးများကို မြင်လေ၏၊– ဧနောက်အသက်
နှစ်ပေါင်း သုံးရာ ခြောက်ဆယ် ငါးနှစ်တည်း။–
၂၄ ဧနောက်သည် ဘုရားသခင်နှင့်အတူသွားလာ၏။
နောက်တဖန် သူသည်မရှိ၊ အကြောင်းမူကား၊
ဘုရားသခင်သိမ်းယူတော်မူသောကြောင့်တည်း။
၂၅ မသုရှလသည် အသက်တရာ ရှစ်ဆယ်ခုနှစ်
၂၆ နှစ်ရှိသော်၊ သားလာမက်ကို မြင်လေ၏။– လာ
မက်ဖွားမြင်သောနောက်၊မသုရှလသည်အနှစ်
ခုနှစ်ရာရှစ်ဆယ်နှစ်နှစ်အသက်ရှင်၍၊သားသမီး
၂၇ များကိုမြင်လေ၏။– မသုရှလသည်အသက်နှစ်
ပေါင်းကိုးရာခြောက်ဆယ်ကိုးနှစ် ရှိသော်သေ
လေ၏။
၂၈ လာမက်သည်အသက်တရာရှစ်ဆယ်နှစ်နှစ်
၂၉ ရှိသော်သားကိုမြင်၍၊– ဤသူသည်ကား၊ထာဝ
ရဘုရားကျိန်တော်မူသောမြေ၌လုပ်၍၊ပင်ပန်း
ဆင်းရဲရသော ငါတို့အား သက်သာ စေသောသူ
ဖြစ်လိမ့်မည်ဟု၍၊သားကိုနောဧဟူသောအမည်
၃၀ မြင့် မှည့်လေ၏။– နောဧ ဖွားမြင်သောနောက်၊
လာမက်သည် အနှစ်ငါးရာကိုးဆယ်ငါးနှစ်အ
၃၁ သက်ရှင်၍၊ သားသမီးများကိုမြင်လေ၏။– လာ
မက်သည်အသက်နှစ်ပေါင်းခုနှစ်ရာခုနှစ်ဆယ်
၃၂ ခုနှစ်နှစ် ရှိသော် သေလေ၏။– နောဧသည်အ
သက်ငါးရာရှိ၏၊ နောဧသားကား၊ ရှေမ၊ဟာမ၊
ယာဖက်တည်း။

၆

၁ မြေကြီးမျက်နှာ ပေါ်မှာလူတို့သည် များပြား
၂ ၍၊သမီးများကိုလည်း ရကြသောအခါ၊– ဘုရား
သခင်၏ သားတို့သည် လူသမီးတို့ လှကြောင်းကို
မြင်၍၊ကိုယ်မိတ်ရှိသည်အတိုင်းစုံဖက်ကြ၏–
၃ ထာဝရ ဘုရားကလည်း၊ ငါ့ဝိညာဉ်သည် လူတို့
တွင်အစဉ် မဆုံးမရ၊ အကြောင်းမူကား၊ လူတို့
သည်အသား၊ဖြစ်၏၊ သူ၏ အသက်တန်း သည်
လည်း၊အနှစ်တရာနှစ်ဆယ်ဖြစ်စေဟုမိန့်တော်
၄ မူ၏။–ထိုကာလ၌၊မြေကြီးပေါ်မှာကိုယ်ကြီးမား
သောသူအချို့ ရှိကြ၏၊ထိုနောက်၌လည်း၊ဘုရား
သခင်၏ သားတို့သည် လူသမီးတို့နှင့် ဆက်ဆံ၍
ရသော သားတို့သည်၊ အားကြီးသောသူ၊ ရှေး
ကာလမှစ၍၊ကျော်စောသောသူဖြစ်ကြ၏။
၅ မြေကြီးပေါ်မှာလူအပြစ်ကြီး၍၊ သူ၏စိတ်နှလုံး
ထဲ၌အကြံအစည်ရှိသမျှတို့သည် အစဉ်မပြတ်
ဆိုးညစ်ခြင်းသက်သက် ရှိကြောင်းကို၊ ဘုရား
၆ သခင်သိမြင်တော်မူလျှင်၊–မြေကြီးပေါ်မှာလူကို
ဝန်ဆင်း၊ တော်မူသည်ကို နောင်တရ၍၊ နှလုံး
၇ တော်ပူပန်လျက်ရှိတော်မူ၏၊–ထာဝရဘုရားက
လည်း၊ ငါဖန်ဆင်းသောလူကိုငှင်၊လူမှစ၍သား
ရဲ၊ တွားသွားတတ်သော တိရစ္ဆာန်များ၊ မိုဃ်း
ကောင်းကင် ငှက်များတို့ကို မြေကြီးမျက်နှာမှ
ငါသုတ်သင် ပယ်ရှင်းမည်၊ သူတို့ကို ဖန်ဆင်း
သောကြောင့် ငါနောင်တရသည်ဟု မိန့်တော်မူ
၈ ၏၊– နောဧမူကား၊ထာဝရဘုရားမိတ်တော်နှင့်
တွေ့သောသူဖြစ်သတည်း။
၉ နောဧအဆက်အနွယ်ဟူမူကား၊နောဧသည်ဖြောင့်
မတ်သောသူ၊ မိမိအမျိုး၌စုံလင်သောသူ ဖြစ်၏၊
၁၀ ဘုရားသခင်နှင့်အတူသွားလာ၏၊–နောဧသည်၊
ရှေမ၊ဟာမ၊ ယာဖက်တည်းဟူသော၊သားသုံး
၁၁ ယောက်ကိုမြင်လေ၏။– ထိုအခါမြေကြီးသည်၊
ဘုရားသခင် ရှေ့မှာ ပုပ်ပပ်လျက်ရှိ၏၊ မြေကြီး
၁၂ သည် အဓမ္မအမှုနှင့်ပြည့်စုံလေ၏။– ဘုရားသ
ခင်သည် မြေကြီးကိုကြည့်ရှုသောအခါ၊ပုပ်ပပ်

ကျွတ် မှိုသည်ကို မြင်တော်မူ၏၊ ထိုကြောင့်မူ ထား၊မြေကြီးပေါ်မှာလူအပေါင်းထိုသဦးခေါ် မြန်ခြင်းသို့ရောက်ကြပြီ။

၂၃ ထိုအခါ ဘုရား သခင်သည်၊ ရောဓေား မိန့်တော်မူသည်ကား၊ သတ္တဝါ အပေါင်းတို့၏ အဆိုးသည် ရှေ့ထပ်မှောက်တွင် ပေါ်လာပြီ၊ သူတို့ကြောင့်မြေကြီးသည်အစရွက်မှုနှင့် ပြည့်စုံလေ၏၊ အကယ်စင်စစ်မြေကြီးနှင့်တကွ သူတို့ကိုဝါ

၂၄ ဗျက်ဆီးမည်၊- ဂေါဖရထစ်သားဖြင့်၊ သင်္ဘောကိုကိုယ်အဖို့တည်လုပ်လော့၊ အထဲ၌တည်း အခန်းများကိုလုပ်လော့၊အတွင်း၊ပြင်၊ ပတ်သည်

၂၅ ထိုထင်းရှူးခေါ်နှင့် လုတ်လော့၊- လုပ်ရမည်ပုံ ထူမူကား၊ သင်္ဘောအလျားအတောင်သုံးရာ၊အနံအတောင်ငါးဆယ်၊အမြင့်အတောင်သုံးဆယ်

၂၆ မှိုဓေရမည်၊- အပေါ်၌ထည်၊ အမိုးကို လုပ်ရမည်၊ထိုအမိုးအပေါ်အထက်ကျွတ်၌၊ ထိပ်ရှုစ် အနံတတောင် စကျယ်မှိုဓေရမည်၊ သင်္ဘောနံ ထဓတ်၌ထည်း တံခါးကိုလုပ်ရမည်၊ အောက်ဆင့်၊အထက်ဆင့်၊အပေါ်ဆင့်တို့၌၊ သုံးဆင့်ကို

၂၇ ထည်းမှိုဓေရမည်၊- အထက်ရှင်သောသတ္တဝါ အပေါင်းတို့ကို၊ ကောင်းကင်အောက်မှ ကိုယ်ထိုင်ယက်ရှင်းခြင်းငှါ၊ မြေကြီးကို ရေတွမ်းမိုးစေ ထမြင့်၊ မြေပေါ်မှာ မှိုသမျှ ထိုသည် သေရကြ

၂၈ စည်း၊- ထင်၌မူကား၊ပဋိညည်ကိုငါတည်စေစည်းသင်သည်၊သား၊မယား၊ ချွေးမများနှင့်တ

၂၉ ထွ၊သင်္ဘောထဲသို့ဝင်ရမည်၊- အထက်ရှင်သော တိရိစ္ဆာန် အမျိုးမျိုးထဲက၊ အထီး၊အမ၊ အစုံတို့ကိုလူ၍၊ ထင်နှင့် အတူ အသက် ရှမ်းသာ စေ

၃၀ ခြင်းငှါ၊သင်္ဘောထဲသို့သွင်းရမည်၊-ငှက်ထည်း အမျိုး၊ အလိုက်၊ သားထည်း၊ အမျိုး၊ အလိုက်၊ တွား တတ်သော တိရိစ္ဆာန် အပေါင်း ထည်း အမျိုး၊ အလိုက်၊ အထီး အမ၊ အစုံတို့သည် အသက် ရှင်းသာ စေခြင်း ငှါ၊ ထင့် ထံသို့ လာကြ ထိမ့်မည်၊- ကိုယ်စား စရာအမှို၊ တိရိစ္ဆာန်တို့ စားစရာအမှို၊ စားထပ်သော အစာအမျိုးမျိုးကို ထူ၍ ထိုထားရမည်တု၊ ဘုရား သခင် မှာထား

၃၁ မှတ်မူ၏-မှာထားတော်မူသည့်အတိုင်း၊ထည်း နောဧပြုလေ၏။

၇

၁ ထိုနောက်၊ ထာဝရဘုရား သခင်သည် နောဧ ထိုတစေ မိန့်တော်မူမြန် သည်ကား၊ ဤကာလ အမျိုးတွင် ထင်ထပ်ဖြောင့်၌ မြော်မှတ်ကြောင်း ထိုငါထံမြင်ထပ်ပြီဖြစ်၍၊ ထင်၏အိမ်ထူအိမ်ထား အပေါင်းတို့ နှင့် တကွ၊ သင်္ဘော ထဲ သို့ ဝင်ကြ

၂ လော့၊- မြေကြီးပေါ်မှာတိရိစ္ဆာန်အမျိုးမျိုး ထတ်ရှုယ် စေခြင်းငှါ၊ စင်ကြယ်သောသတ္တဝါ အမျိုး တမျိုး တမျိုးတွင် အထီး အမ ခုနှစ်စုံစီ၊ မစင်ကြယ်သော သားမျိုး၊ တမျိုး တမျိုးတွင်သည်

၃ အထီး အမ နှစ်စုံစီ၊- မိုဃ်း ကောင်း ကင် ငှက်၊ တမျိုးတမျိုးတွင်သည်၊အထီး၊အမ ခုနှစ်စုံစီ၊အ

၄ သီ၊အသီးတို့ကိုသိမ်းထူရမည်၊- အကြောင်းမူ ကား၊သရေ့မှ၍ ခုနှစ်ရက် နေလျှင်၊ အရက်လေးဆယ်ပတ်လုံး၊မြေကြီးပေါ်သို့မိုဃ်းရွာစေမည်၊ ငါဖန်ဆင်းသော သတ္တဝါ အပေါင်းတို့ကို၊ မြေကြီးမျက်နှာပေါ်မှ ငါပယ်ရှင်းမည်တု၊ ထာဝရ

၅ ဘုရားမှာထားတော်မူ၏၊- မှာထားတော်မူသည့်

၆ အတိုင်း၊ထည်းနောဧပြုလေ၏၊- မြေကြီးကိုရေ တွမ်းမိုးသောအခါ၊နောဧသည် အသက်ခြောက်

၇ ရာမှိုသတည်း၊- ရေတွမ်းမိုးခြင်းအကြောင်း၊ နောဧသည်မိမိသား၊ မယား၊ ချွေးမများနှင့်အ

၈ တူ၊ သင်္ဘောထဲသို့ဝင်၍၊- ဘုရားသခင်မှာထားတော်မူသည်အတိုင်း၊စင်ကြယ်သောသား၊မစင်ကြယ်သောသား၊ငှက်များနှင့်၊ မြေပေါ်မှာတွား

၉ တတ်သောတိရိစ္ဆာန်များ အထဲက-အထီး အမ အစုံတို့သည်၊ နောဧနှင့်အတူသင်္ဘောထဲ ထိဝင်ကြ၏။

၁၀ ခုနှစ်ရက်နေသောအခါ၊ တွမ်းမိုးအဝီသော

၁၁ ရေသည်မြေပေါ်၌ပေါ်လာ၏၊- နောဧအသက် ခြောက်ရာစေ့သောနှစ်၊ ဒုတိယလ၊ ထယ်ခုနှစ်ရက်နေ့တွင်၊ ကြီးစွာသောနက်နဲရာ ရေ့စေ့ါတ် ရေတွင်းတို့၏တဆီ၊အတား မှိုသမျှကို ပယ်ရှင်း၍၊မိုဃ်းကောင်းထင်ပြွန်ဝများကို ဖွင့်သဖြင့်၊-

၁၂ အရက် လေးဆယ် ပတ်လုံး မြေကြီး ပေါ်မှာ

၁၃ မိုဃ်း ရွာလေ၏၊- ထိုနေ့ရက်တွင်၊နောဧနှင့်မိမိ မထား၊မှစ၍၊ ရှေမ၊ ထာမ၊ ယာဖက်တည်းဟူ သော၊ နော ဧ ထား သုံး ယောက်၊ ချွေး မ သုံး

၁၄ ယောက်တို့သည်၊သင်္ဘောထဲသို့ဝင်ကြ၏၊-ထား ရဲ မျိုးထားယည်မျိုး၊မြေပေါ်မှာတွားတတ်သော

၁၅ တိရိစ္ဆာန်မျိုး၊ပျံတတ်သောကြက်ငှက်မျိုး၊-အ ထက်ရှင်သောတိရိစ္ဆာန်အမျိုးမျိုးအပေါင်းတို့ အထဲက၊အထီးအမ အစုံတို့သည်၊ နောဧနှင့်အ

၁၆ တူသင်္ဘောထဲသို့ဝင်ကြလေ၏၊- ထိုသို့နောဧကို ဘုရား သခင် မှာ ထား တော် မူ သည် အ တိုင်း ဝင်သော တိရိစ္ဆာန် တို့ သည်၊ အထီး အမ

တိရိစ္ဆာန်တို့အထဲက၊ အထီးအမစုံလျက်ဝင်ကြ
၏။ ထာဝရဘုရားသည်လည်း၊ နောဧကိုအထဲ
မှာပိတ်ထားတော်မူ၏။
၁၇ ရေလွှမ်းမိုးခြင်းသည်၊ အရက် လေးဆယ်
ပတ်လုံး၊ မြေကြီးပေါ်မှာအစဉ်အတိုင်းတိုးတက်
၍၊သင်္ဘောကိုမြေမှ ခွာလျက် ဆောင်ယူလေ၏။-
၁၈ တဖန် ရေသည် အားကြီး၍၊ မြေကြီး ပေါ်မှာ
အလွန်တိုးတက်သဖြင့်၊ သင်္ဘောသည် ရေမျက်
၁၉ နှာပေါ်၌မျောလျက်နေလေ၏။-နောက်တဖန်ရေ
သည် မြေကြီးပေါ်မှာ အလွန် အားကြီး၊ သဖြင့်၊
မိုဃ်း ကောင်း ကင် အောက်၌၊ ရှိ သမျှ သော
၂၀ တောင်ကြီး အပေါင်း တို့သည် မြုပ်ကြ၏။- ရေ
မြုပ်သောတောင်တို့အထက်၌လွှမ်းတက်သော
ရေသည်အတောင်၊တဆယ့်ငါးတောင်ရှိသတည်း။
၂၁ မြေပေါ်မှာလှုပ်ရှားတတ်သောတိရိစ္ဆာန်မျိုး
တည်းဟူသောငှက်၊ သားယဉ်၊ သားရဲ၊ မြေ
ပေါ်မှာတွားတတ်သော တိရိစ္ဆာန်အပေါင်းတို့
၂၂ နှင့်၊ လူအပေါင်းတို့သည် သေကြကုန်၏။- အ
သက် ရှူလျက်ကုန်းပေါ်မှာရှိသော သမျှ တို့သည်
၂၃ သေကြကုန်၏။- မြေမျက်နှာပေါ်၌ ရှိသောလူ
ဖြစ်စေ၊သားဖြစ်စေ၊ တွားတတ်သော အရာဖြစ်
စေ၊မိုဃ်းကောင်းကင်ငှက်ဖြစ်စေ၊ အသက်ရှင်
သောအရာရှိရှိသမျှတို့ကို၊ မြေကြီးပေါ်က ပယ်
ရှင်းတော်မူ၍၊ ပျက်စီး ကွယ်ပျောက် ခြင်း သို့
ရောက်ကြကုန်၏။ နောဧမှစ၍ နောဧနှင့်အတူ
သင်္ဘောထဲ၌ ရှိသော သူတို့သာ ကျန်ကြွင်း ကြ
၂၄ လေ၏။- ရေသည်လည်းမြေကြီးပေါ်မှာ၊ ရက်
ပေါင်း တရာ ငါးဆယ် ပတ် လုံး အားကြီး ခွာ
တည်လေ၏။

၈

၁ ဘုရားသခင်သည်၊ နောဧမှစ၍အသက်ရှင်
သမျှသောသတ္တဝါ၊ နောဧနှင့်အတူသင်္ဘောထဲ
၌ရှိသော တိရိစ္ဆာန်အပေါင်းတို့ကို အောက်မေ့
၍၊မြေကြီးပေါ်မှာလေလာစေတော်မူသဖြင့်ရေ
၂ ညိမ်လေ၏။- နက်နဲရာရေပေါက်ရေတွင်းများ၊
မိုဃ်း ကောင်း ကင် ပြွန်ဝ များ ကို ဆို့ပိတ် ၍၊
၃ မိုဃ်းကို စဲစေတော်မူ၏။- ရေသည်လည်း မြေ
ပေါ်မှာအစဉ်အတိုင်းဆုတ်သွား၍၊အရက်တရာ
ငါးဆယ် စေ့သောအခါ ယုတ် လျော့ လေ၏။-
၄ သတ္တမလ၊ ဆယ်ခုနစ်ရက် နေ့တွင်၊ သင်္ဘော
သည်အာရရတ်အမည်ရှိသော တောင်ပေါ်မှာ
၅ ထင်လေ၏။- ဒသမလတိုင်အောင် ရေသည်အ
စဉ်မပြတ် ယုတ်လျော့၍၊ ထိုလဆန်းတရက်
နေ့တွင်တောင်ထိပ်တို့သည်ပေါ်ကြ၏။
၆ ထိုမှ အရက် လေးဆယ် ကြာ လျှင်၊ နောဧ
သည် သင်္ဘောထဲ၌ လုပ်ခဲ့သော ပြတင်းပေါက်
၇ ကိုဖွင့်၍၊ကျီးအတကောင်ကိုလွှတ်လေ၏။-ထို
ကျီးအ သည် မြေပေါ်မှာ ရေမခန်း မခြောက်မှီ
၈ ထိုင်အောင်၊ သွားလာလျက် နေလေ၏။- တဖန်
မြေမျက်နှာ ပေါ်မှာ ရေကုန်သည် မကုန်သည်
ကို သိခြင်းငှါ၊ ချိုးတကောင်ကို လွှတ်ပြန် လေ
၉ ၏။- မြေတပြင်လုံး၌ ရေရှိသေးသော ကြောင့်၊
ချိုးသည်ခြေဖြင့်နင်း၍အမောဖြေစရာကိုမတွေ့
သဖြင့်၊ နောဧရှိရာသင်္ဘောသို့ ပြန်လာလေ၏။
နောဧသည်လည်း၊ လက်ကိုဆန့်၍၊ ချိုးကိုကိုင်
ယူပြီးလျှင်၊ မိမိနေရာ သင်္ဘော ထဲသို့ သွင်းလေ
၁၀ ၏။-တဖန်ခုနစ်ရက်နေပြီးမှ ထိုချိုးကိုသင်္ဘော
၁၁ ထဲကလွှတ်ပြန်၏။-ညဦးအချိန်၌ချိုးသည်နောဧ
ထံသို့ပြန်လာ၍၊မိမိဆိတ်ယူသောသံလွင်ရွက်
၁၂ ကိုမိမိနှုတ်သီးဖြင့်ဆောင်ခဲ့သောကြောင့်၊- မြေ
ကြီးပေါ်မှာရေကုန်ကြောင်းကိုနောဧသိလေ၏။
တဖန် ခုနစ်ရက်နေပြီးမှ ထိုချိုးကိုလွှတ်ပြန်၏။
နောက်တဖန်ချိုးသည်မပြန်မလာနေ၏။
၁၃ အနှစ်ခြောက်ရာတခု ပဌမလဆန်းတရက်
နေ့တွင်၊ မြေကြီးပေါ်မှာရေခန်းခြောက်သည်ရှိ
သော်၊ နောဧသည် သင်္ဘောမိုးကို ပယ်ဖျက်၍
ကြည့်ရှုသောအခါ၊မြေမျက်နှာခြောက်စရှိ
၁၄ သည်ကိုမြင်၏။-ဒုတိယလ၊နှစ်ဆယ်ခုနစ်ရက်
နေ့တွင်မြေကြီး၊သွေ့ခြောက်လေ၏။
၁၅၊၁၆ ဘုရားသခင်ကလည်း၊ သင်သည်၊ သား၊
မယား၊ချွေးမတို့နှင့်တကွ၊ သင်္ဘောထဲကထွက်
၁၇ ဆင်းလော့။- သင်ထံမှ အသက် ရှင်သော တိ
ရိစ္ဆာန်၊ ငှက်များ၊ သားများ၊ မြေပေါ်၌ တွား
တတ်သောတိရိစ္ဆာန်များတို့သည်၊ မြေပေါ်မှာ
သားကိုဖွား၍အလွန်တိုး ပွား များပြားမည်အ
ကြောင်း၊ထိုတိရိစ္ဆာန်ရှိသမျှတို့ကိုကိုယ်နှင့်အ
တူထုတ်ဆောင် လော့ဟု၊ နောဧကို မိန့်တော်မူ
၁၈ ၏။- ထိုအခါနောဧမှစ၍၊သား၊ မယား၊ ချွေးမ
၁၉ တို့သည် ထွက်ဆင်း ကြ၏။- သားများ၊ တွား
တတ်သောတိရိစ္ဆာန်များ၊ငှက်များ၊မြေပေါ်မှာ
လှုပ်ရှားတတ်သမျှ သောအမျိုးမျိုးအပေါင်းတို့
သည်လည်း၊၊သင်္ဘောထဲကထွက်ဆင်းကြ၏။
၂၀ နောဧသည်လည်း၊ ထာဝရဘုရားအဖို့ထာဝ
ပလ္လင်ကိုတည်ပြီးမှ၊ စင်ကြယ်သောသား၊ စင်

ဖြစ်သော ငှက်အမျိုးမျိုးထဲက ယူ၍၊ ယဇ်
ပလ္လင်ပေါ်မှာမီးရှို့သောယဇ်ကိုပူဇော်လေ၏။
၂၁ ထာဝရဘုရားသည်။ မွှေးကြိုင်သောအနံ့
ကိုခံယူ၍၊ ငါသည်နောက်တဖန်လူတို့အတွက်
မြေကြီးကို မကျိန်၊ အကြောင်းမူကား၊ လူတို့
သည်ငယ်သော အရွယ်မှစ၍၊ စိတ်နှလုံး၏
ကြံအစည်ဆိုးကြ၏။ ငါသည်ယခုပြုပြီး
သကဲ့သို့၊ အသက်ရှင်သောအရာ ရှိသမျှတို့ကို
၂၂ နောက်တဖန် မသတ်။ မြေကြီး တည်ရှိ
သရွေ့ကာလပတ်လုံး မျိုးစေ့ကြဲရသောကာလ၊ အသီးအ
နှံကိုရိတ်ရသောကာလ၊ ချမ်းသောကာလ၊ ပူ
သောကာလ၊ နွေကာလ၊ ဆောင်းကာလ မပြတ်
ရဟု အမိန့်တော်ရှိ၏။

၉

၁ ဘုရားသခင်သည်၊ နောဧနှင့် သူ၏
သားတို့ကို ကောင်းကြီးပေးတော်မူ၍၊ သင်တို့
သည်များပြားစွာ တိုးပွားလျက်မြေကြီးကိုပြည့်
၂ စေကြလော့။ မြေတိရိစ္ဆာန်၊ မိုဃ်းကောင်းကင်
ငှက်အစရှိသော မြေပေါ်မှာလှုပ်ရှားတတ်သမျှ
နှင့်၊ ပင်လယ်ငါးအပေါင်းတို့သည်၊ သင်တို့ကြောင့်
ကြောက်ရွံ့ တုန်လှုပ်ခြင်း ရှိသော ဖြစ်ရကြ
လိမ့်မည်။ ထိုတိရိစ္ဆာန်တို့ကိုသင်တို့လက်၌ငါ
၃ အပ်၏။ အသက် ရှင်၍ လှုပ်ရှား တတ် သမျှ
သည်၊ အသီးအရွက်ကဲ့သို့၊ သင်တို့စားစရာတို့
ဖြစ်ရမည်။ ခပ်သိမ်းသောအရာတို့ကိုသင်တို့၌
၄ ငါအပ်ပေး၏။ သို့သော်လည်း၊ အသက်တည်း
ဟူသောအသွေးနှင့်တကွ အသားကို မစားရ။
၅ အကယ်၍သင်တို့အသက်တည်းဟူသော၊ သင်
တို့အသွေးကိုငါတောင်းမည်။ လူ၊ တိရိစ္ဆာန်အ
ပေါင်းတို့၌ ငါတောင်းမည်။ ခပ်သိမ်းသောလူ
တို့၏ညီအစ်ကို၌၊ လူ၏အသက်ကို ငါတောင်း
၆ မည်။ အကြင်သူသည် လူ၏အသွေးကိုသွန်၏၊
ထိုသူ၏အသွေးကိုလူသတ်ဖြင့်သွန်းရမည်။ အ
ကြောင်းမူကား၊ ဘုရားသခင်သည် မိမိပုံ
သဏ္ဌာန်နှင့် အညီ လူကိုဖန်ဆင်းတော်မူ၏။
၇ သင်တို့သည်သားကိုဖွား၍ များပြားကြလော့။
မြေပေါ်မှာအသွန်ဖွားမြင်၍ များပြားကြလော့
ဟုမိန့်တော်မူ၏။
၈ တဖန် ဘုရားသခင်သည်၊ နောဧနှင့် သူ၏
၉ သားတို့ကိုမိန့်တော်မူသည်ကား- သင်တို့နှင့်
၁၀ ရစ်၊ နောက်ဖြစ်လတ္တံ့သော အမျိုးအနွယ်နှင့်
ဖြစ်၊ သင်တို့ထံမှာ အသက်ရှင်သော တိရိစ္ဆာန်

တည်ယူသော၊ ငှက်၊ သားသတ္တဝါ၊ သားရဲရှိသမျှ
အစ တော်ထဲက ထွက်သော၊ အများမှစ၍၊ မြေတိ
ရိစ္ဆာန်အပေါင်းတို့နှင့်၎င်း၊ ငါသည်ကိုယ်တိုင်
၁၁ ပဋိညာဉ်ဖွဲ့၏။ သင်တို့နှင့်ငါဖွဲ့သောပဋိညာဉ်
တူမူကား၊ ရေလွှမ်းမိုးခြင်းအားဖြင့်၊ ခပ်သိမ်း
သောသတ္တဝါတို့သည်နောက်တဖန်မဆုံးရကြ။
မြေကြီးကိုဖျက်ဆီးဖို့ရာနောက်တဖန်ရေလွှမ်း
၁၂ မိုးခြင်းမရှိရ။ ထိုမှတပါး၊ ငါတခုတ်၊ သင်တို့
နှင့် သင်တို့ထံမှာ အသက် ရှင် သမျှသော တိ
ရိစ္ဆာန်တို့တခုတ်၌၊ ထာဝရမြဲစေသည့်အသက်
ဖြတ်၊ ငါဖွဲ့သော ပဋိညာဉ်၏လက္ခဏာ ထင်
၁၃ စေသည်မှုကား- ငါ၏သက်တံ့ကို မိုဃ်းတိမ်၌
ငါထား၏၊ ထိုသက်တံ့သည် မြေကြီးနှင့် ငါဖွဲ့
၁၄ သောပဋိညာဉ်၏သက်သေဖြစ်လိမ့်မည်။ ငါ
သည်မိုဃ်းကို ဆုံစေသောအခါ၊ မိုဃ်းတိမ်၌
၁၅ သက်တံ့သည်ထင်ရှားလိမ့်မည်။ ထိုအခါငါတ
တော်၊ သင်တို့မှစ၍၊ အသက်ရှင်သောသတ္တဝါ၊
တိရိစ္ဆာန် ရှိသမျှတို့ တခုတ်၌ ရှိသော၊ ငါ၏
ပဋိညာဉ်ကိုငါအောက်မေ့သဖြင့်၊ ခပ်သိမ်းသော
သတ္တဝါ တို့ကို ဖျက်ဆီးခြင်းငှါ၊ နောက်တဖန်
၁၆ ရေလွှမ်းမိုးခြင်းမရှိရ။ မိုဃ်းတိမ်၌သက်တံ့ရှိ
သည်ကိုငါကြည့်ရှုသဖြင့်၊ ဘုရားသခင်နှင့်မြေ
ကြီးပေါ်မှာ အသက် ရှင် သော၊ သတ္တဝါတိ
ရိစ္ဆာန်အပေါင်းတို့ ခပ်ကြားမှာရှိသော၊ ထာဝ
၁၇ ရပဋိညာဉ်ကို ငါအောက်မေ့မည်။ ဤသည်
ကား၊ ငါနှင့်မြေကြီးပေါ်မှာရှိသောသတ္တဝါအ
ပေါင်းတို့၏ ခပ်ကြားမှာ၊ ငါအမြဲ ဖွဲ့သော ပဋိ
ညာဉ်၏ လက္ခဏာသက်သေဖြစ်သတည်းဟု
နောဧကိုဘုရားသခင်မိန့်တော်မူ၏။
၁၈ သင်္ဘောထဲကထွက်ဆင်းသောနောဧသားတို့
၏အမည်ကား ရှေမ၊ ဟာမ၊ ယာဖက်တည်း။
၁၉ ဟာမသည်ခါနာန်၏အဘဖြစ်၏။ ဤသူတို့သည်
နောဧ၏သားသုံးယောက်ဖြစ်၍၊ မြေကြီးတပြင်
လုံး၌ နှံ့ပြားကြ၏။
၂၀ နောဧသည် လယ်လုပ်သော အလုပ်ကိုပြု
၂၁ ၍၊ စပျစ်ဥယျာဉ်ကို စိုက်လေ၏။ စပျစ်ရည် ကို
သောက်၍ ယစ်မူးသဖြင့်၊ မိမိတဲ၌ အဝတ်
၂၂ မရုံ ထဲရှိလေ၏။ ခါနာန်၏အဘ ဟာမသည်၊ မိမိ
အဘ၏ အဝတ်အချည်းစည်း ရှိသည်ကိုမြင်လျှင်
ပြင်မှာရှိသော အစ်ကို နှစ်ယောက်ကို ပြောလေ
၂၃ ၏။ ရှေမနှင့်ယာဖက်တို့သည်အဝတ်ကိုယူ၍ပ
ခုံးပေါ်မှာ တင်ပြီးလျှင်၊ နောက်သို့ဆုတ်သွား၍

ခမိမိအဖ၏၊ အဝတ်အချည်းစည်းရှိသည်ကိုဖုံးကြ
၏၊ သူတို့သည်ပြင်သို့ မျက်နှာပြုသောကြောင့်၊
မိမိအဖ၏ အဝတ်အချည်းစည်းရှိသည်ကို မမြင်
၂၄ ရ။- နောဧသည်ယစ်မူးခြင်းပျောက်၍ နိုးသော
၂၅ အခါ၊မိမိ၌သားငယ်ပြုသည်ကိုသိလျှင်၊-ခါနာန်
သည်ကျိန်ခြင်းကိုခံပါစေ၊အစ်ကိုတို့၏ကျွန်တို့၌
၂၆ ကျွန်ဖြစ်ပါစေဟုဆို၏။-တဖန်ရှေမ၏ဘုရားသ
ခင် ထာဝရဘုရားသည် မင်္ဂလာရှိတော်မူစေသ
၂၇ တည်း၊ ခါနာန်သည်ရှေမ၏ကျွန်ဖြစ်ပါစေ၊-ဘု
ရားသခင်သည် ယာဖက်ကိုကျယ်စေတော်မူသ
ဖြင့်၊ ရှေမ၏တဲတို့တွင်နေပါစေ၊ ခါနာန်မူကား၊
သူ၏ကျွန်ဖြစ်ပါစေဟုဆိုလေ၏။
၂၈ နောဧသည် ရေလွှမ်းမိုးသောနောက်၊ အနှစ်
၂၉ သုံးရာ ငါးဆယ်အသက်ရှင်၍၊-အသက်ပေါင်း
ကိုးရာငါးဆယ်နှစ်သော်အနိစ္စရောက်လေ၏။

၁၀

၁ ရေလွှမ်းမိုးသောနောက်၊နောဧသားရှေမ၊ဟာ
မ၊ယာဖက်တို့မှဆင်းသက်သော သားစဉ်မြေး
၂ ဆက်တို့ကိုဆိုပေအံ့။- ယာဖက်၏ သားကား၊
ဂေါမာ၊ မာဂေါဂ၊ မာဒဲ၊ ယာဝန်၊ တုဗလ၊ မေ
၃ ရှက်၊ တိရတ်တည်း။- ဂေါမာသားကား၊အာရှ
၄ ကေနတ်၊ရိဖတ်၊တောဂါမတည်း။-ယာဝန်သား
ကား၊ဧလိရှာ၊တာရှု၊ကိတ္တိမ်၊ဒေါဒနိမ်တည်း။-
၅ ဤသူတို့သည် လူအမျိုးမျိုး တကျွန်းတနိုင်ငံမြေ
နယ်တို့ကို၊ဘာသာအသီးအသီး၊ အမျိုးအနွယ်
အသီး အသီး ရှိသည် အတိုင်း၊ အချင်းချင်း ခွဲ
၆ ဝေကြ၏။- ဟာမသားကား၊ကုရှ၊မိဇရိမ်၊ဖုတ၊
၇ ခါနာန်တည်း။-ကုရှသားကား၊သေဗ၊ဟာဝိလ၊
သာဗတ၊ ရာဂမ၊သဗ္ဗေခါတည်း၊ ရာဂမသား
၈ ကား၊ရှေဘ၊ဒေဒန်တည်း။- ကုရှသည်သားနိမ်
ရောဒကိုလည်းရသေး၏၊ ထိုသားသည်မြေကြီး
၉ ပေါ်မှာအဦးစွမ်းနိုင်သောသူဖြစ်၏၊-ထာဝရဘု
ရားရှေ့မှာအားကြီးသောမုဆိုးဖြစ်၏၊ထိုကြောင့်
စကားပုံ၌ကား၊ ဘုရားရှေ့နိမ်ရောဒ၊ အားကြီး
၁၀ မုဆိုး၊ ပြုလုပ်သည်လိုထုစပ် ဆိုသတည်း။- သူ
၏နိုင်ငံ အဦး ကား၊ ရှိနာပြည်၌ ဗာ ဗုလုန် မြို့၊
၁၁ ဧရက်မြို့၊ အက္ကာဒ်မြို့၊ ကာလနေမြို့ တည်း။- ထို
ပြည်မှအာရှုရိပြည်သို့သွား၍နိနေဝေမြို့၊ရဟော
၁၂ ဘုတ်မြို့၊ ကာလမြို့ကိုဎင်၊- နိနေဝေမြို့နှင့်၊ ကာ
လမြို့စပ်ကြားမှာကြီးစွာသောမြို့တည်းဟူသော
ရေသင်မြို့ကိုဎင်တည်ဆောက်လေ၏။
၁၃ မိဇရိမ်သားကား၊ လုဒိမ်လူ၊အာနမိမ်လူ၊လ
၁၄ ဟာဗိမ်လူ၊နဖ္တုဟိမ်လူ၊- ပါသရုသိမ်လူ၊ကာ
သလုဟိမ်လူ၊ကဖ္တောရိမ်လူတည်း၊ ကာသလု
ဟိမ်အမျိုးထဲကဖိလိတ္တိလူဖြစ်သတည်း။
၁၅ ခါနာန်သား အကြီးကား၊ ဇိဒုန်၊ ထို နောက်
၁၆ ဟေသ၊-ထိုနောက်ယေဗုသိလူ၊အာမောရိလူ၊ဂိ
၁၇၊၁၈ ရဂါရှိလူ၊-ဟိဝိလူ၊အာကိလူ၊သိနိလူ၊- အာ
ဝဒိလူ၊ဇေမရိလူ၊ဟာမသိလူတည်း၊ ထိုနောက်
ခါနာန်အမျိုးသား အသီးအသီးတို့သည် နှံ့ပြား
၁၉ ကြလေ၏။- ခါနာန် အမျိုးသား နေရာပြည်နယ်
သည်ဇိဒုန်မြို့မှဂေရာမြို့၊ ဂါဇမြို့တိုင်အောင်၎င်း၊
တဖန်သောဒုံမြို့၊ ဂေါမောရမြို့၊ အာဒမာမြို့၊ ဇေ
ဘိုင်မြို့ကိုလွန်၍ လာရှမြို့ တိုင်အောင်၎င်း၊ ရှိသ
၂၀ တည်း။- ဤသူတို့သည် သီးခြားသော အမျိုးအ
နွယ်၊ သီးခြားသောဘာသာအလိုက်၊ အပြည်
ပြည် အတိုင်းတိုင်း၌ နေသော ဟာမ သားများ
ဖြစ်သတည်း။
၂၁ ယာဖက်ညီ၊ဧဗြိလူအပေါင်းတို့၏အဘ၊ ရှေ
၂၂ မသည်လည်း သားများကို မြင် လေ၏။- ရှေမ
သားကား၊ ဧလံ၊အာရှုရ၊အာဖာဇဒ်၊လုဒ၊အာရံ
၂၃ တည်း။- အာရံသားကား၊ ဥဇ၊ဟုလ၊ဂေသာ၊
၂၄ မာရှတည်း။-အာဖာဇဒ်သားရှာလ၊ရှာလသား၊
၂၅ ဧဗာတည်း။- ဧဗာသည်လည်း သားနှစ်
ယောက်ကိုမြင်လေ၏၊ သား တယောက်ကား၊
ဖာလက်အမည်ရှိ၏၊အကြောင်းမူကား၊သူလက်
ထက်၌ မြေကြီးကိုခွဲဝေ ကြ၏၊ သူ၏ ညီ ကား၊
၂၆ ယုတ္တန် အမည် ရှိ၏။- ယုတ္တန်သားကား၊ အာ
၂၇ လမောဒဒ်၊ရှေလပ်၊ဟာဇာမာဝက်၊ယေရ၊-ဟ
၂၈ ဒေါရံ၊ဥဇလ၊ဒိကလ၊- ဩဗလ၊ အာဘိမေလ၊
၂၉ ရှေဘ၊-ဩဖိရ၊ဟဝိလ၊ယောဗပ်၊ဤသူအပေါင်း
၃၀ တို့သည်ယုတ္တန်သားဖြစ်သတည်း။-သူတို့နေရာ
မူကား၊ မေရှာမြို့မှသည်အရှေ့မျက်နှာ၌ သေဖာ
၃၁ တောင်တိုင်အောင် ရှိသတည်း။- ဤသူတို့သည်
သီးခြားသောအမျိုးအနွယ်၊ သီးခြားသောဘာ
သာအလိုက်၊ အပြည်ပြည်အတိုင်းတိုင်းတို့၌နေ
သောရှေမသားများဖြစ်သတည်း။
၃၂ ဤရွေ့ကား၊မိမိတို့အမျိုးအနွယ်အသီးအသီး
အလိုက်မှတ်သားသောနောဧသား ဆွေစဉ်မျိုး
ဆက်စာရင်းပေတည်း။ ထိုသူတို့သည်ရေလွှမ်း
မိုးသောနောက်၊ မြေကြီးပေါ်မှာ သီးခြားသော
တိုင်းပြည်တို့ကိုတည်ထောင်ကြလေ၏။

၁၁

၁ မြေကြီးသားအပေါင်းတို့သည်ဘာသာတမျိုး၊

ထည်း၊ စကားတမျိုးတည်းရှိကြသည် ဖြစ်၍၊
၂ အရှေ့ရပ်မှ ခရီးသွားသဖြင့်၊ ရှိနာပြည်၌မြေ
၃ ညီရာအရပ်ကိုတွေ့၍ နေရာချကြ၏။- လူတို့က
လည်းလာကြ၊ အုတ်လုပ်၍မီးဖုတ်ကြ
ကုန်အံ့ဟု၊ တယောက်ကိုတယောက် ပြောကြ
၏။ ထိုသို့ကျောက်အရာ၌အုတ်ကို၎င်း၊ ထုံး
၄ အရာ၌ရေညှိတမျိုးကို၎င်းရပြီးလျှင်။- လာကြ၊
မြေကြီးအပြင်ထက်၌ အရပ်ရပ်ကွဲပြားမည်ကိုစိုး
ရိမ်၍၊ မြို့ကို၎င်း၊ မိုးကောင်းကင်သို့မှီရသော
ရဲတိုက်ကို၎င်းတည်လုပ်သဖြင့်၊ ကျော်စောကြို
၅ မှီစေခြင်းငှါ ပြုကြကုန်အံ့ဟုပြောဆိုကြ၏။- ထို
ထိုလူသားတို့တည် လုပ်သောမြို့နှင့် ရဲတိုက်ကို
ကြည့်ရှုခြင်းငှါ၊ ထာဝရဘုရားသည် ဆင်းသက်
၆ တော်မူ၏။- ထာဝရဘုရားက၊ ကြည့်ရှုလော့၊ လူ
တမျိုးတည်း၊ စကားတမျိုးတည်းရှိသည်ဖြစ်၍၊
လူတို့သည်ဤအမှုကိုအဦးပြုကြ၏၊ သရုံကြံစည်
အမှုတို့ကို အဆီးအတားမရှိ၊ သူတို့ပြုကြလိမ့်
၇ မည်။- လာကြ၊ ဆင်းသက်ကြကုန်အံ့၊ သူတို့သည်
အချင်းချင်း နားမလည်စေခြင်းငှါ၊ သူတို့စကားကို
၈ ရှုတ်ထွေးကြကုန်အံ့ဟု မိန့်တော်မူ၏။- ထိုသို့
ထာဝရဘုရားသည် သူတို့ကိုမြေကြီးတပြင်လုံး
၌အရပ်ရပ်ကွဲပြားစေတော်မူသဖြင့်၊ သူတို့သည်
၉ မြို့ကိုမတည်ဘဲနေကြ၏။- သို့ဖြစ်၍ထိုမြို့၌ထာဝ
ရဘုရားသည်မြေကြီးသားအပေါင်းတို့၏စကား
ကိုရှုတ်ထွေး၍၊ သူတို့ကိုမြေကြီးတပြင်လုံး၌အ
ရပ်ရပ် ကွဲပြားစေတော် မူသော ကြောင့်၊ ထိုမြို့
သည်ဗာဗုလုန်မြို့ဟူ၍ တွင်သတည်း။
၁၀ ရှေမ၏သားစဉ်မြေးဆက် ဟူမူကား၊ ရှေမ
သည် အသက် တရာ ရှိ၍၊ ရေလွှမ်းမိုးသော
နောက် နှစ်နှစ် ကြာသော်၊ သား အာ ဖာ ဇဒ်
၁၁ ကို မြင် ထေ၏။- အာ ဖာ ဇဒ် ဖွား မြင် သော
နောက်၊ ရှေမသည်အနှစ်ငါးရာအသက်ရှင်၍၊
၁၂ သားသမီး များကို မြင်ထေ၏။- အာဖာဇဒ်သည်
အသက်သုံးဆယ်ငါးနှစ်ရှိသော်၊ သားရှာလကို
၁၃ မြင်ထေ၏။-ရှာလဖွားမြင်သောနောက်၊ အာဖာ
ဇဒ်သည်အနှစ်လေးရာသုံးနှစ် အသက်ရှင်၍၊
၁၄ သားသမီးများကိုမြင်ထေ၏။-ရှာလသည်အသက်
သုံးဆယ်ရှိသော်၊ သားဧဗာကို မြင်ထေ၏။-
၁၅ ဧဗာဖွားမြင်သောနောက်၊ ရှာလသည်အနှစ်
လေးရာသုံးနှစ်အသက်ရှင်၍၊ သားသမီးများကို
၁၆ မြင်ထေ၏။- ဧဗာသည် အသက် သုံးဆယ်
လေးနှစ်ရှိသော်၊ သားဖာလက်ကိုမြင်ထေ၏။-
၁၇ ဖာလက် ဖွားမြင် သောနောက်၊ ဧဗာသည်
အနှစ် လေးရာသုံးဆယ် အသက်ရှင်၍၊ သား
၁၈ သမီးများကိုမြင်ထေ၏။- ဖာလက်သည်အသက်
သုံးဆယ်ရှိသော်၊ သားရာဂေါကို မြင်ထေ၏။-
၁၉ ရာဂေါ ဖွားမြင် သောနောက်၊ ဖာလက်သည်
အနှစ် နှစ်ရာ ကိုးနှစ် အသက်ရှင်၍၊ သားသမီး
၂၀ များ ကိုဖွားမြင်ထေ၏။- ရာဂေါသည်အသက်
သုံးဆယ်နှစ်နှစ်ရှိသော်၊ သားစေရုတ်ကိုမြင်
၂၁ ထေ၏။-စေရုတ်ဖွားမြင်သောနောက်၊ ရာဂေါ
သည်အနှစ်နှစ်ရာခုနစ်နှစ်အသက်ရှင်၍၊ သား
၂၂ သမီးများကိုမြင်ထေ၏။-စေရုတ်သည်အသက်
သုံးဆယ်ရှိသော်၊ သားနာခေါ်ကို မြင်ထေ၏။-
၂၃ နာခေါ် ဖွားမြင်သော နောက်၊ စေရုတ်သည်
အနှစ် နှစ်ရာ အသက်ရှင်၍၊ သားသမီး များကို
၂၄ မြင်ထေ၏။- နာခေါ်သည်အသက်နှစ်ဆယ်ကိုး
၂၅ နှစ်ရှိသော်၊ သားတေရကို မြင်ထေ၏။- တေရ
ဖွားမြင်သောနောက်၊ နာခေါ်သည်အနှစ်တရာ
တဆယ်ကိုးနှစ်အသက်ရှင်၍၊ သားသမီးများကို
၂၆ မြင်ထေ၏။- တေရသည် အသက် ခုနစ် ဆယ်
ရှိသော်၊ သား အာဗြံ၊ နာခေါ်၊ ဟာရန်တို့ကို မြင်
ထေ၏။
၂၇ တေရ၏သားစဉ်မြေးဆက်ဟူမူကား၊ တေရ
၂၈ သည်အာဗြံ၊ နာခေါ်၊ ဟာရန်တို့ကိုမြင်ထေ၏။- ဟာ
ရန်သည်လည်း လောတကို မြင်ထေ၏။ ဟာရန်
သည်၊ အဖတေရ မသေမှီ၊ မိမိဖွားရာ အရပ်၊
ခါလဒဲပြည်သားတို့ နေသော ဥရမြို့၌ သေလေ
၂၉ ၏။- အာဗြံနှင့်နာခေါ်သည်မယားကိုယူ၍၊ အာ
ဗြံ၏ မယားကား၊ စာရဲ အမည်ရှိ၏။ နာခေါ်၏
မယားကားဟာရန်၏သမီး၊ မိလခါအမည်ရှိ၏။ ဟာရန်
၃၀ သည်မိလခါနှင့်ဣသခါ၏အဖဖြစ်သတည်း။- စာ
၃၁ ရဲမူကား၊ မြုံသောမိန်းမဖြစ်၍၊ သားသမီးမရှိ။- တေ
ရသည် သား အာဗြံကို၎င်း၊ ဟာရန်၏ သားဖြစ်
သောမြေး လောတကို၎င်း၊ သား အာဗြံ၏ မယား
ဖြစ်သော မိမိချွေးမစာရဲကို၎င်းခေါ်၍၊ သူတို့သည်
ခါနာန်ပြည်သို့သွားခြင်းငှါ၊ ခါလဒဲပြည်သားတို့
နေသောဥရမြို့မှထွက်သဖြင့်၊ ခါရန်မြို့သို့ရောက်
၃၂ ၍ နေကြ၏။- တေရသည် အသက် နှစ်ရာငါး
နှစ်ရှိသော်၊ ခါရန်မြို့၌သေလေ၏။

၁၂

၁ ထာဝရဘုရားသည်လည်း အာဗြံကိုခေါ်တော်
မူ၍၊ သင်၏ပြည်နှင့်တကွ အမျိုးသားချင်း၊ ပေါက်
ဖော်များထဲက ထွက်ပြီးလျှင်၊ ငါပြထားသော

၂ ပြည်သို့သွားလော့။-ငါသည်သင့်ကိုလူမျိုးကြီး
ဖြစ်စေမည်။ ငါကောင်းကြီးပေး၍သင်၏နာမကို
ကြီးမြတ်စေမည်။ သင်သည် ကောင်းကြီး ခံရ
၃ သောသူဖြစ်လိမ့်မည်။-သင့်ကိုကောင်းကြီးပေး
သောသူကိုငါကောင်းကြီးပေးမည်။သင့်ကိုကျိန်
ဆဲသော သူကို ငါကျိန် ဆဲမည်။ သင်အားဖြင့်
လည်း လူမျိုး အပေါင်း တို့သည် ကောင်းကြီး
မင်္ဂလာကို ခံရကြလိမ့်မည်ဟု မိန့်တော်မူ၏။-
၄ ထိုသို့ ထာဝရဘုရား မိန့်တော်မူသည် အတိုင်း၊
အာဗြံထွက်သွား၍ လောတထည်း လိုက်လေ
၏။အာဗြံသည်ခါရန်မြို့မှထွက်သွားသောအခါ၊
၅ အသက် ခုနစ်ဆယ် ငါးနှစ်ရှိ၏။- အာဗြံသည်
မယားစာရဲ၊ အစ်ကိုသား လောတနှင့်၊ ဥစ္စာရ
တတ်သမျှကိုရင်၊ခါရန်မြို့၌ရသော လူအို့ကိုရင်
ယူပြီးလျှင်၊ခါနာန်ပြည်သို့ရောက်ခြင်းငှါထွက်
သွား၍၊ထိုပြည်သို့ရောက်ကြ၏။
၆ အာဗြံသည်ထိုပြည်ကို ရှောက်သွား၍ ရှိခင်
အရပ်၊မောရေသပိတ်ပင်သို့ ရောက်လေ၏။ ထို
အခါ၊ ခါနာန် အမျိုးသား တို့သည် ထိုပြည်၌ရှိ
၇ ကြ၏။- ထာဝရ ဘုရားသည် အာဗြံအား ထင်
ရှား၍၊ဤပြည်ကိုသင်၏ အမျိုးအနွယ်အားငါ
ပေးမည်ဟု မိန့်တော်မူ၏။ ထိုသို့ထင်ရှားတော်
မူသော ထာဝရ ဘုရား တို့၊ ထို အရပ် ၌၊ ယဇ်
ပလ္လင်ကိုတည်လေ၏။
၈ ထိုအရပ်မှသွားပြန်၍၊ ဗေသလမြို့ အရှေ့၌
ရှိသောတောင်သို့ပြောင်းသဖြင့်၊ဗေသလမြို့အ
နောက်၊ အာဣမြို့ အရှေ့ စပ်ကြား၊ မှာ တဲ ကို
ဆောက်၍၊ ထာဝရ ဘုရားအို ယဇ် ပလ္လင်ကို
တည်ပြီးလျှင်၊ ထာဝရ ဘုရား၏ နာမတော်ကို
၉ ပဌနာ ပြု၏။- အာဗြံ သည် ခရီး သွား လျက်၊
ပြောင်းလျက်၊တောင်မျက်နှာသို့ရောက်လေ၏။
၁၀ ထိုနောက်၊ခါနာန်ပြည်၌အစာခေါင်းပါးခြင်း
ဖြစ်၏။ အလွန်အစာခေါင်းပါး သော့ကြောင့်၊
အာဗြံသည် အဲဂုတ္တု ပြည်၌ တည်းခို ခြင်းငှါ
၁၁ သွားလေ၏။- အဲဂုတ္တုပြည်နှင့်နီးသောအခါ၊
မိမိမယားစာရဲ ကို၊ သင်သည် အဆင်းလှသော
မိန္မဖြစ်သည်ကို ငါသိ၏။- အဲဂုတ္တု ဥသို့သည်
သင့်ကိုမြင်သောအခါ၊ ဤမိန္မသည် သူ၏မယား
ဖြစ်၏ဟု ဆို လျက်၊ ငါကို သတ် ၍ သင့် ကို အ
၁၃ သက် ချမ်းသာ ပေးလိမ့်မည်။- သို့ဖြစ်၍ သင်
သည်ငါနှစ်မ ဖြစ်ကြောင်းကို ပြောပါလော့။ သို့
ပြောလျှင်သင်အတွက်ငါကောင်းစားလိမ့်မည်၊
သင်၏ကျေးဇူးအားဖြင့်၊ ငါအသက်ချမ်းသာရ
လိမ့်မည်ဟု ဆို၏။
၁၄ အာဗြံသည် အဲဂုတ္တု ပြည်သို့ ရောက်သော
အခါ၊သူ၏မယားသည်အလွန်အဆင်းလှသည်
၁၅ ကိုအဲဂုတ္တုလူတို့သည်မြင်ကြ၏။- ဖာရောဘုရင်
၏မှူးတော်မတ်တော်တို့လည်းမြင်၍၊ရှေ့တော်၌
၁၆ ချီးမွမ်းပြီးလျှင်၊နန်းတော်သို့သွင်းရကြ၏။- ဖာ
ရောဘုရင်သည်ထိုမိန္မအတွက်အာဗြံ၌ကျေးဇူး
ပြုသဖြင့်၊သူသည်သိုး၊နွား၊ မြည်း၊ မြင်း၊ ကျွန်
ယောက်ျား၊ ကျွန် မိန္မ၊ ကုလားအုတ် များ၊ နှင့်
၁၇ ကြွယ်ဝ၏။-ထာဝရဘုရားသည်၊အာဗြံ၏မယား
စာရဲအတွက်ကြောင့်၊ ဖာရောဘုရင်မှစ၍ နန်း
တော်သားတို့ကို၊ ကြီးသောဘေးဒဏ် ဖြင့်ဆုံး
၁၈ တော်မူ၏။-ဖာရောဘုရင်သည်လည်းအာဗြံကို
ခေါ်၍၊ သင်သည်ငါ၌ပြုသောအမှုကားအဘယ်
သို့နည်း။သူသည်သင်၏မယားဖြစ်ကြောင်းကို၊
၁၉ ငါ့အား အဘယ် ကြောင့် မပြော သနည်း။- ငါ
သည်သူကိုသိမ်းပိုက်စေခြင်းငှါ၊ သူသည်ငါ့နှစ်
မဖြစ်သည်ဟုအဘယ်ကြောင့်ဆိုသနည်း။သင်
၏မယားကိုယာခုယူ၍သွားလော့ဟုအမိန့်ရှိ၏။-
၂၀ ထိုသို့အာဗြံ အမှုကို စီရင်၍၊ မိမိလူတို့အား မှာ
ထားသဖြင့်၊ သူတို့သည် အာဗြံ၌ ရှိသမျှသော
ဥစ္စာနှင့်တကွ၊ ထိုမိန်းမောင်နှံ တို့ကို ထွတ်လိုက်
ကြ၏။

၁၃

၁ အာဗြံတို့မောင်နှံတို့သည်လည်း၊ လောတ
နှင့်တကွ မိမိတို့၌ ရှိသမျှ သော ဥစ္စာကို ယူ၍၊
အဲဂုတ္တုပြည်မှထွက်သွားသဖြင့်၊ ခါနာန်ပြည်
၂ တောင် ပိုင်းသို့ ရောက်ကြ၏။- ထိုအခါ အာဗြံ
သည်၊ သိုး၊ နွားစသည်တို့ကိုရင်၊ ရွှေငွေကိုရင်
၃ အလွန် ရတတ်၏။- တဖန် တောင် ပိုင်းမှ ခရီး
သွား၍၊ဗေသလနယ်အတွင်း၊ဗေသလမြို့၊ အာ
ဣမြို့စပ်ကြား၌၊ အထက်ကတဲကိုဆောက်၍၊-
၄ ယဇ်ပလ္လင်ကိုတည်ခဲ့ဘူးသောအရပ်သို့ရောက်
ပြန်လျှင်၊ ထိုအရပ်တွင် ထာဝရ ဘုရား၏ နာမ
၅ တော်ကိုပဌနာပြု၏။-အာဗြံနှင့်အတူလိုက်လာ
သောလောတသည်လည်း၊သိုး၊နွားများနှင့်တဲ
၆ အများရှိသဖြင့်၊- ထိုလူနှစ်ဦးတို့သည်အတူနေ
ခြင်းငှါထိုမြေမဆံ့နိုင်။ဥစ္စာများလွန်း၍၊ သူတို့
၇ သည်တရပ်တည်း မနေနိုင်ကြ။- အာဗြံ၏ နွား
ကျောင်းသား၊ လောတ၏နွားကျောင်းသားတို့
သည်လည်းခိုက်ရန်ပြုကြ၏။ ထိုအခါ၊ခါနာန်

အမျိုးသား၊ ဖေရဇိအမျိုးသားတို့သည် ထိုပြည်၌
၈ နေကြသတည်း။- အာဗြံကလည်း၊ ငါတို့သည်
ညီအစ်ကိုချင်းဖြစ်လျက်၊ ငါနှင့်သင်၌၎င်း၊ ငါ့သူ
ကျွန်းသားတို့နှင့်၊ သင့်ကျွန်းကျောင်းသားတို့
၉ ၌၎င်း၊ မိုက်ရန်မရှိပါစေနှင့်။- မြေတပြင်လုံးသည်
သင့်ရှေ့မှာ ရှိသည် မဟုတ်လော၊ ငါနှင့် ခွာ၍
နေပါလော့၊ သင်သည် လက်ဝဲ လက် သို့ သွား
လျှင်၊ ငါသည်လက်ျာလက်သို့ သွားမည်၊ သင်
သည်လက်ျာလက်သို့သွားလျှင်၊ ငါသည်လက်
၁၀ ဝဲလက်သို့သွားမည်ဟုဆို၏။- ထိုကာလအခါ၊
သောဒုံ မြို့နှင့် ဂေါမောရ မြို့ကို ထာဝရဘုရား
ဖျက်ဆီး တော်မမူမှီ၊ ဇောရ မြို့သို့ သွားသော
လမ်း၊ ယော်ဒန်မြစ်ပတ်ဝန်းကျင် အရပ်ရပ်၌
ရေများ၍၊ ထာဝရဘုရား၏ဥယျာဉ်တော်ကဲ့သို့
၎င်း၊ အဲဂုတ္တုပြည်ကဲ့သို့၎င်းဖြစ်သည်ကို၊ လော
၁၁ တ မျှော်ကြည့်၍ မြင်လျှင်၊- ယော်ဒန် မြို့နှင့် တ
ချောင်လုံးကို ရွေးချယ်၍၊ အရှေ့သို့ ပြောင်း
သွားသဖြင့်၊ အချင်းချင်းတဦးနှင့်တဦး ကွဲပြား
၁၂ ကြ၏။- အာဗြံသည် ခါနာန်ပြည်၌နေ၏၊ လော
တ မူကား၊ မြစ် ပတ်ဝန်းကျင် မြို့တို့တွင် နေ၍၊
၁၃ သောဒုံမြို့နားမှာတဲကိုဆောက်လေ၏။- သောဒုံ
မြို့သားတို့သည် ဆိုးသောသူ၊ ထာဝရဘုရား၏ရှေ့
၌၊ အလွန်အပြစ်များသောသူဖြစ်ကြသတည်း။
၁၄ လောတ သည် အာဗြံနှင့် ခွာ၍ သွားပြီးမှ၊
ထာဝရ ဘုရားသည် အာဗြံကို ခေါ်၍၊ သင်ရှိ
သော အရပ် က တောင်၊ မြောက်၊ အ ရှေ့၊ အ
၁၅ နောက်သို့မျှော်ကြည့်လော့။- သင်မြင်သောမြေ
တပြင်လုံးကို၊ သင်နှင့် သင်၏ အမျိုး၊ အ နွယ်
အား၊ ငါသည်ကာလအစဉ်အမြဲ ပေးမည်။-
၁၆ သင်၏ အမျိုး၊ အ နွယ်ကို မြေမှုန့်ကဲ့သို့ ငါများ
ပြားစေမည်၊ သို့ဖြစ်၍ လူသည် မြေမှုန့်ကိုရေ
တွက် နိုင်လျှင်၊ သင် ၏ အမျိုး၊ အ နွယ် ကို ရေ
၁၇ တွက် နိုင်ကြလိမ့်မည်။- သင်ထ၍မြေကို၊ အ
လျား အားဖြင့်၎င်း၊ အနံ အား ဖြင့်၎င်း ရှောက်
သွားလော့၊ သင် အားငါပေးမည်ဟုမိန့်တော်မူ
၁၈ ၏။- ထိုခဏ အာဗြံသည် တဲကို ပြောင်း၍၊ ဟေ
ဗြုန်မြို့၊ မံရေ သပိတ်တောသို့ ရောက် မှ နေ ရာ
ကျ၍၊ ထာဝရဘုရား၏ယဇ်ပလ္လင်ကို တည်
လေ၏။

၁၄

၁ ထိုနောအခါ၊ ရှိနာ မင်း ကြီး အံရ ဖေ လ၊
ဧလ္လာသာ မင်းကြီး၊ အာရုတ်၊ ဧလံ မင်းကြီးခေ
ဒေါရလောမာ၊ ဂေါဣမ် မင်းကြီး၊ တိဒလတို့
၂ သည်၊- သောဒုံမင်းကြီးဗေရ၊ ဂေါမောရ မင်း
ကြီးဗိရရှ၊ အာဒမာမင်းကြီးရှိနပ်၊ ဇေဘိုင်မင်း
ကြီးရှေမဘာ၊ ဗေလာမင်းကြီးတို့နှင့်စစ်တိုက်
ကြ၏။ ဗေလပြည်ကား၊ ဇောရအမည်ထည်း ရှိ
၃ သတည်း။- ထိုပြည်ရှိသမျှတို့သည်၊ ဆားရုံဖြစ်
ဖြစ်သော ဗိဒ္ဒိမ်ချိုင့်တွင် နီးစပ်လျက် ရှိကြ၏။-
၄ တဆယ် နှစ်နှစ်ပတ်လုံး ခေဒေါရလောမာ မင်း
ကြီးထံကျွန်ခံပြီးလျှင်၊ တဆယ်သုံးနှစ်မြောက်
၅ သောအခါ ပုန်ကန်ကြ၏။- တဆယ် လေးနှစ်
မြောက်လျှင်၊ ခေဒေါရလောမာမင်းသည်၊ မိမိ
ထက်က နေသော မင်းကြီးတို့နှင့်တကွ လာ၍၊
အာရှတရုတ်ကာနိမ်မြို့၌၊ ရေဖိမ်လူများကို၎င်း၊
ဟာမမြို့၌ ဇုဇိမ်လူများကို၎င်း၊ ကိရယသိမ်ချိုင့်
၆ ၌ဧမိမ်လူများကို၎င်း၊- မိရတောင်ပေါ်မှာဟော
ရိလူများကို၎င်းလုပ်ကြံ၍၊ တောနားမှာရှိသော
၇ ဧလပါရန်မြို့ တိုင် အောင် လိုက် ကြ၏။- တဖန်
ပြန် လာ၍၊ ကာဒေရှ ပြည်၊ ဧန်မိရှပတ်မြို့သို့
ရောက်ပြီးလျှင်၊ အာမလက်ပြည်ရှိသမျှကို၎င်း၊
ဟာဇဇုန်တာမာမြို့၌ နေသော အာမောရိလူများ
၈ ကို၎င်းလုပ်ကြံကြ၏။- ထိုအခါသောဒုံမင်းကြီး၊
ဂေါမောရမင်းကြီး၊ အာဒမာမင်းကြီး၊ ဇေဘိုင်
မင်းကြီး၊ ဇောရတည်းဟူသောဗေလာမင်းကြီး
တို့သည်ရှိထွက်၍၊ ဗိဒ္ဒိမ်ချိုင့်၌စစ်ပြိုင်ကြ၏။-
၉ ထိုသို့ဧလံမင်းကြီးခေဒေါရလောမာ၊ ဂေါဣမ်
မင်းကြီးတိဒလ၊ ရှိနာမင်းကြီးအံရဖေလ၊ ဧလာ
သာမင်းကြီးအာရုတ်တည်းဟူသော၊ မင်းကြီး
လေးပါးနှင့်၊ မင်းကြီး ငါးပါးတို့သည် စစ်ပြိုင်
၁၀ ကြ၏။- ဗိဒ္ဒိမ်ချိုင့်၌ရေညှိအကျိအချွဲနှင့် ပြည့်
သောတွင်းများရှိ၏၊ သောဒုံမင်းကြီး၊ ဂေါမောရ
မင်းကြီးတို့သည်ပြေး၍ ထိုတွင်းများ၌ ကျလေ
၏၊ ကြွင်းသောသူတို့သည်တောင်သို့ပြေးကြ၏။
၁၁ -အောင်သော မင်းတို့သည်၊ သောဒုံမြို့နှင့်ဂေါ
မောရမြို့၌ရှိသမျှသောဥစ္စာနှင့် မြို့ရိက္ခာရှိသမျှ
၁၂ တို့ကိုယူ၍ သွား ကြ၏။- သောဒုံ မြို့၌ နေသော
အာဗြံအစ်ကိုသား လောတနှင့် သူ၏ဥစ္စာတို့ကို
ထည်းသိမ်းယူ၍ သွား၏။
၁၃ ထိုတိုက်မှလွတ်၍ ပြေးသောသူ တယောက်
သည်၊ ဟေဗြဲလူအာဗြံနှင့်မိဿဟာယဖွဲ့သော
သူ၊ ဧရှကောလနှင့်အာနေရ၏ အစ်ကိုအာမော
ရိလူမံရေ၏သပိတ်တောနားမှာ နေသောအာဗြံ
ထံသို့ ရောက်၍၊ သိတင်း ကြားပြော လေ၏။

၁၄ အာဗြံ သည် မိမိ အစ် ကို သား ကို ဖမ်း သွား
ကြောင်းကို ကြား လျှင်၊ မိမိ အိမ်၌ ဖွား၍ သွန်
သင်သော လူသုံးရာတဆယ်ရှစ်ယောက် တို့ကိုမှ
၁၅ ရစ်၍၊ ဒန်မြို့တိုင်အောင်လိုက်လေ၏။—ညဉ့်အ
ခါ၊ မိမိလူတို့ကို ခွဲ၍ တိုက်စေသဖြင့်၊ လုပ်ကြံပြီး
လျှင်၊ ဒမာသက်မြို့မြောက်ဖက်ယောဘမြို့တိုင်
၁၆ အောင် လိုက်ပြန်လေ၏။- ရန်သူတို့ သိမ်းသွား
သော ဥစ္စာ ရှိသမျှကိုငင်၊ မိမိ အစ်ကိုသားလော
တ နှင့် သူ၏ဥစ္စာ ကိုငင်၊ မိန်းမများ နှင့် လူများကို
၎င်း အကုန်ဆောင်ယူခဲ့လေ၏။
၁၇ ခေဒေါလောမာနှင့်၊ သူ၏ ထက် က နေသော
မင်းကြီးတို့ကို လုပ်ကြံရာမှ အာဗြံပြန်လာသော
အခါ၊ သောဒုံမင်းကြီးသည်ခရီးဦးကြိုပြုခြင်းငှါ
ရှာဝေ မြိုင်တည်းဟူသောမင်းကြီးမြိုင်သို့ ထွက်
၁၈ သွား၏။- အမြင့်ဆုံးသောဘုရားသခင်၏ယဇ်ပု
ရောဟိတ် ဖြစ်သော၊ ရှာလင် မင်းကြီး မေလခိ
ဇေဒက်သည်လည်း၊ မုန့်နှင့်စပျစ်ရည်ကိုဆောင်
၁၉ ခဲ့ပြီးလျှင်၊-ကောင်းကင်မြေကြီးရှင်၊ အမြင့်ဆုံး
သောဘုရားသခင်သည်အာဗြံအားကောင်းကြီး
ပေးတော်မူပါစေသော်၊ အာဗြံကိုကောင်းကြီး
၂၀ ပေး၍၊- သင်၏ရန်သူတို့ကိုသင်၏လက်၌အပ်နှံ
တော် မူသော၊ အမြင့် ဆုံးသော ဘုရား သခင်
သည်း၊ မင်္ဂလာရှိတော်မူစေသတည်းဟုမြွက်ဆို
၏၊ အာဗြံသည်လည်း၊ ဥစ္စာရှိသမျှတို့ကို၊ ထိုမင်း
အား ဆယ်ဘို့တဘို့လှူလေ၏။
၂၁ သောဒုံ မင်းကြီး က လည်း၊ လူတို့ကို ကျွန်ုပ်
အားပြန်ပေးပါ၊ ဥစ္စာတို့ကိုကား၊ ကိုယ်တိုင်ယူပါ
၂၂-၂၄ ဟု အာဗြံအားပြောဆိုလျှင်၊-အာဗြံက
မင်းကြီးသည် အာဗြံကို ငါရတတ်စေပြီဟုပြော
စရာမရှိစေခြင်းငှါ၊ လုလင်တို့သည်စားပြီးသော
အရာကိုငင်၊ ကျွန်ုပ်နှင့်အတူလိုက်လာသောသူ၊
အာနေရ၊ ဧရှကော၊ မံရေတို့သည် မိမိတို့အ
ဘို့ကိုယူစေခြင်းငှါ အခွင့် ပေးသဖြင့်၊ သူတို့ယူ
သောအဘို့ကိုငင်ထား၍၊ မင်းကြီး၏ဥစ္စာ၊ အပ်
ချည်တမျှင်ဖြစ်စေ၊ ခြေနင်းကြိုးဘပင်ဖြစ်စေ၊ တ
စုံတခုကိုမျှ ငါမယူဟု ကောင်းကင်မြေကြီးရှင်၊
အမြင့်ဆုံးသော ဘုရားသခင် ထာဝရဘုရားရှေ့
တော်၌၊ ကျွန်ုပ်သည် လက်ကိုချီ၍ အဓိဋ္ဌာန်ပြု
ပါပြီဟုသောဒုံမင်းကြီးအား ပြောဆိုလေ၏။

၁၅

၁ ထိုနောက်မှ ရူပါရုံတော်အားဖြင့်၊ ထာဝရ
ဘုရား၏ နှုတ် ကပတ် တော် သည် အာဗြံ သို့
ရောက်၍၊ အချင်းအာဗြံ၊ မကြောက်နှင့်။ ငါသည်
သင်၏အကွယ်အကာဖြစ်၏၊ သင်၏အကျိုးအစ
၂ အလွန်ကြီးလှ၏ဟုမိန့်တော်မူလျှင်၊- အာဗြံက၊
အရှင် ထာဝရဘုရား၊ အကျွန်ုပ်သည်သားမရှိဘဲ
သွားရပါ၏၊ ဤဒမာသက်မြို့သား ဧလျေဇာသည်
အကျွန်ုပ်၏အမွေခံဖြစ်ရပါ၏၊ သို့ဖြစ်၍ အဘယ်
ကျေးဇူးကို ပြုတော်မူပါမည်နည်းဟု လျှောက်
၃ ဆို၏။- တဖန်အာဗြံက၊ အကျွန်ုပ်အားအမျိုးအ
နွယ်ကိုပေးတော်မမူပါ၊ အကျွန်ုပ်၏အိမ်၌ဖွား
သောသူသည်၊ အကျွန်ုပ်၏အမွေခံဖြစ်ရပါသည်
၄ တကားဟုလျှောက်ဆို၏။—တဖန်ထာဝရဘုရား
၏နှုတ်ကပတ်တော် ရောက်လာသည်ကား၊ ဤ
သူသည်သင်၏ အမွေခံမဖြစ်ရ၊ သင်၏ကိုယ်ထဲ
က ထွက် သော သူ သည် သင်၏ အမွေခံ ဖြစ်
၅ လိမ့်မည်ဟုမိန့်တော်မူပြီးလျှင်၊- အာဗြံကိုပြင်
သို့ ထုတ်ဆောင်တော်မူ၍၊ မိုဃ်းကောင်းကင်
ကိုမျှော်ကြည့်လော့၊ ကြယ်များကိုရေတွက်နိုင်
လျှင်၊ ရေတွက်လော့၊ သင်၏အမျိုးအနွယ်သည်
၆ ထိုသို့ ဖြစ်လိမ့် မည်ဟု မိန့်တော်မူ၏။- အာဗြံ
သည်ထာဝရဘုရားကိုယုံကြည်သည်ဖြစ်၍၊ သူ
၏ ယုံကြည်ခြင်းကို ဖြောင့်မတ်ခြင်းကဲ့သို့ မှတ်
တော်မူ၏။
၇ တဖန်၊ ငါသည်ဤပြည်ကိုသင်အမွေခံစရာဘို့၊
သင်အားပေးလိုသောငှါ၊ ခါလဒဲပြည်သားတို့
နေသောဥရမြို့မှ သင့်ကိုထုတ်ဆောင်သောထာ
၈ ဝရဘုရားဖြစ်သည်ဟုမိန့်တော်မူလျှင်၊- အရှင်
ထာဝရဘုရား၊ ဤပြည်ကိုအကျွန်ုပ်အမွေခံရမည်
ကို အဘယ်သို့သိရပါအံ့နည်းဟု မေးလျှောက်
၉ လေ၏။-ထာဝရဘုရားကလည်း၊ သုံးနှစ်အသက်
ရှိသောနွားမတကောင်၊ သုံးနှစ်အသက်ရှိသော
ဆိတ်မတကောင်၊ သုံးနှစ် အသက်ရှိသော သိုး
ထီးတကောင်၊ ချိုးတကောင်၊ ခိုငယ်တကောင်
တို့ကိုငါ့ဆီသို့ယူခဲ့လော့ဟုမိန့်တော်မူသည်အတိုင်း၊-
၁၀ ထိုတိရစ္ဆာန် အပေါင်းတို့ကိုယူ၍၊ တကောင်တ
ကောင်ကို ထက်ဝက်စီ ခွဲပြီးလျှင်၊ ခွဲသော အ
သားတို့ကို တဖက်တချက်၌ထားလေ၏၊ ငှက်
၁၁ ကောင်တို့ကိုမခွဲ။-ငှက်ရဲတို့သည်အသေကောင်
တို့အပေါ်သို့ ဆင်းလာသောအခါ၊ အာဗြံသည်
၁၂ နှင်လေ၏။- နေဝင်သောအခါ၊ အာဗြံသည်ကြီး
သော အိပ်ပြင်းခြင်း အိပ် ပျော်လျက်၊ ထူထဲသော
မှောင်မိုက်နှင့်ခတွေ့၍၊ ထိတ်လန့်ခြင်းသို့ရောက်
၁၃ လေ၏။- ထာဝရဘုရားကလည်း၊ သင်၏အမျိုး

အနွယ်သည်၊ သူတပါးပိုင်သောပြည်၌ ဧည့် သည်ဖြစ်ကြသဖြင့်၊ သူတပါးတို့၌ ကျွန်ခံခြင်း၊ နှိပ်စက် ညှဉ်းဆဲခြင်းကိုအနှစ်လေးရာပတ်လုံး
၁၄ ခံရကြလိမ့်မည်ကို အမှန်သိမှတ်လော့။- သူတို့ ကိုစေခိုင်းသောလူမျိုးကိုလည်းငါစီရင်မည်၊ ထို နောက်မှ၊ သူတို့သည် များစွာသော ဥစ္စာ နှင့်
၁၅ ထွက်ကြလိမ့်မည်။- သင်သည်အိုးတေးတို့ ထံ သို့ ငြိမ်ဝပ်စွာ သွားရ လိမ့်မည်၊ အသက်ကြီး
၁၆ ရင့်လျှက် သင်းဂြိုဟ်ခြင်းကိုခံရလိမ့်မည်။- လူ မျိုးလေးဆက် လွန်သောအခါ၊ သူတို့သည် ဤ ပြည်သို့ပြန်လာကြလိမ့်မည်၊ အာမောရိအမျိုး သားတို့၏ဒုစရိုက် အပြစ်သည်မစုံလင်သေးဟု အာဗြံအားမိန့်တော်မူ၏။
၁၇ ထိုနေ့ဝင်၍မိုက်သောအခါ၊ ခွဲထားသော အသား အကြား၌၊ မီးခိုး ထွက်သောမီးဖို၊ မီး လျှံထင်းသောမီးစွက်သည်ထင်ရှားစွာရှောက်
၁၈ သွားလေ၏။- ထိုနေ့၌ထာဝရဘုရားသည်အာဗြံ နှင့်ပဋိညာဉ်ပြုတော်မူလျှက်၊ အဲဂုတ္တုမြစ်မှစ၍ မြစ်ကြီးတည်းဟူသော၊ ဥဖရတ်မြစ်တိုင်အောင်၊
၁၉ ဤပြည်ကိုငှင်၊- ကေနိလူ၊ ကေနဇိလူ၊ ကာဒမော
၂၀ နိလူ၊- ဟိတ္တိလူ၊ ဖေရဇိလူ၊ ရေဖိမ်လူ၊ အာမော ရိလူ၊ ခါနာနိလူ၊ ဂိရဂါရှိလူ၊ ယေဗုသိ လူတို့ကို
၂၁ ငှင်၊- သင်၏အမျိုး အနွယ်အား ငါအပ်ပေးပြီ ဟုမိန့်တော်မူ၏။

၁၆

၁ အာဗြံ၏မယားစာရဲ၌ သားဖွားခြင်း မရှိသ ဖြင့်၊ အဲဂုတ္တုပြည်သူဟာဂရအမည်ရှိသောကျွန်
၂ မထားသောတ်ရှိသည်ဖြစ်၍၊-စာရဲက၊ အကျွန်ုပ် အားသား ဖွားရသောအခွင့်ကို ထာဝရဘုရား ပေးတော် မမူ၊ အကျွန်ုပ်၏ ကျွန်မထံသို့ ဝင်ပါ လော့၊ သူအားဖြင့်အကျွန်ုပ်သည်တဆင့် သားရ ခြင်းရှိကောင်းရှိပါလိမ့်မည်ဟုအာဗြံအားပြော ဆို၍၊ အာဗြံသည်စာရဲ၏စကားကိုနားထောင်
၃ လေ၏။- ထိုသို့အာဗြံသည်ခါနာန်ပြည်၌ဆယ် နှစ်နေပြီးမှ၊ အာဗြံ၏မယားစာရဲသည် မိမိကျွန် မအဲဂုတ္တုပြည်သူဟာဂရကိုယူ၍၊ မိမိခင်ပွန်း
၄ အာဗြံ ထိမ်းပိုက်စေဖို့အပ်နှင်းလေ၏။-အာဗြံ သည်ဟာဂရထံသို့ဝင်၍၊ ဟာဂရသည် ပဋိသန္ဓေ စွဲလေ၏၊ ဟာဂရ သည် မိမိ တွင် ပဋိသန္ဓေ စွဲနေကြောင်းကိုသိလျှင်၊ မိမိသခင်မ
၅ ကိုမထီမဲ့မြင်ပြုလေ၏။-စာရဲကလည်း၊ အကျွန်ုပ် ခံရသောအပြစ်သည် ကိုယ်တော်ခေါင်းပေါ်၌ တည်ရှိပါစေ၊ အကျွန်ုပ်၏ကျွန်မကို ကိုယ်တော် ရင်ခွင်၌အကျွန်ုပ်အပ်နှင်းပါပြီ၊ သူသည်ကိုယ် ၌ပဋိသန္ဓေစွဲနေကြောင်းကိုသိလျှင်၊ အကျွန်ုပ် ကိုမထီမဲ့မြင်ပြုပါသည်တကား၊ ထာဝရဘုရား သည် အကျွန်ုပ်နှင့် ကိုယ်တော် အမှုကို စီရင် တော်မူပါစေသောဟု၊ အာဗြံအားဆိုလေ၏။-
၆ အာဗြံကလည်း၊ သင်၏ကျွန်မသည်သင်၏လက် ၌ရှိ၏၊ သူ့ကိုပြုချင်သမျှပြုပါလေဟု စာရဲအား ပြန်ပြောလျှင်၊ စာရဲသည်ကျွန်မကိုညှဉ်းဆဲသ ဖြင့်၊ ကျွန်မသည်သခင်မထံမှထွက်ပြေးလေ၏။
၇ ထာဝရဘုရား၏ကောင်းကင်တမန်သည်ရှုရ မြို့သို့သွားရာတောထဲ၌ရှိသော စမ်းရေတွင်း
၈ နားမှာ ဟာဂရကို တွေ့လျှင်- စာရဲကျွန်မ ဟာ ဂရ၊ အဘယ်ကလာသနည်း၊ အဘယ်အရပ် သို့ သွားမည်နည်းဟု မေးတော်၊ ကျွန်မသည် သခင်မ စာရဲထံမှ ပြေးလာပါသည်ဟု ဆိုလေ
၉ ၏- ထာဝရ ဘုရား၏ ကောင်းကင် တမန် က လည်း၊ သင်၏သခင်မထံသို့ပြန်၍၊ သူ၏အုပ်စိုး
၁၀ ခြင်းကိုခံလော့ဟု အမိန့်ရှိ၏။- တဖန် ထာဝရ ဘုရား၏ ကောင်းကင်တမန်က၊ သင်၏အမျိုးအ နွယ်ကိုမရေတွက် နိုင်အောင်၊ ငါအလွန် များ
၁၁ ပြားစေမည်ဟူ၍၎င်း၊-သင်သည်ကိုယ်ဝန်ဆောင် သည်ဖြစ်၍၊ သားယောက်ျားကို ဖွားမြင် လိမ့် မည်၊ ထိုသားကို ဣရှမေလ အမည်ဖြင့် မှည့်ရ မည်၊ အကြောင်းမူကား၊ ထာဝရ ဘုရားသည်
၁၂ သင်၏ဆင်းရဲဒုက္ခကို ကြားသိတော်မူပြီ။- သူ သည်လူရိုင်း ဖြစ်လိမ့်မည်၊ လူအပေါင်း တို့ကို ရန်စတ်ပြုလိမ့်မည်၊ သူကိုလည်း လူအပေါင်း တို့သည်ရန်စတ်ပြုကြလိမ့်မည်၊ မိမိညီအစ်ကို အပေါင်းတို့၏ အပါး၌ နေရလိမ့်မည် ဟူ၍ငှင်
၁၃ မြွက်ဆိုလေ၏။- ထိုသို့မိန့်မြွက်တော်မူသော ထာဝရဘုရားကို၊ အာတေ့ာဧလရော ဟူသော အမည်ဖြင့်ခေါ်ဝေါ်၍၊ ငါ့ကိုမြင်တော်မူသောသူ ကိုဤအရပ်၌ပင် ငါမူ၊ မြင်ရသည် တကားဟု
၁၄ ဟာဂရဆိုလေ၏။- ထိုအကြောင်းကိုအစွဲပြု၍၊ ထိုရေတွင်းကို ဗေရလဟဲရောဟု ခေါ်ကြ၏၊ ကာဒေရှမြို့နှင့် ဗေရက်မြို့ စပ်ကြားမှာ ရှိသ တည်း။
၁၅ ထိုနောက်၊ ဟာဂရသည်အာဗြံအားသားကို ဖွားမြင်၏၊ အာဗြံသည်၊ ဟာဂရဖွားမြင်သော
၁၆ သားကိုဣရှမေလအမည်ဖြင့်မှည့်လေ၏။- အာ ဗြံသည်၊ သား ဣရှမေလကို ဟာဂရ ဖွားမြင်

သောအခါ၊ အသက်ရှစ်ဆယ် ခြောက်နှစ် ရှိသ
တည်း။

၁၇

၁ ထိုနောက်၊အာဗြံသည် အသက်ကိုးဆယ်ကိုး
နှစ်ရှိသောအခါ၊ ထာဝရ ဘုရားသည် အာဗြံ
အား ထင်ရှားတော်မူ၍၊ ငါသည်အနန္တတန်ခိုး
ရှင်ဘုရားသခင်ဖြစ်၏၊ ငါ့ရှေ့မှာ ကျင့်သွား၍
၂ ထင်ခြင်းမှိစေ၊- ငါ၏ပဋိညာဉ်ကိုသင်နှင့်ငါ
ဖွဲ့မည်၊ သင့်ကိုငါအလွန် များပြားစေမည်ဟု
၃ မိန့်တော်မူ၏။- အာဗြံသည်လည်းပြပ်ဝပ်လျှင်၊
၄ ဘုရားသခင်က၊- ငါဖွဲ့သောပဋိညာဉ်သည်သင်
၌ရှိ၏၊ သင်သည် လူမျိုး အများ တို့၏ အဘ ဖြစ်
လိမ့်မည်။- နောက်တစ်ဖန်သင်၏အမည်ကိုအာ
ဗြံဟုမခေါ်ရ၊ သင်၏ အမည်ကို အာဗြဟံဟု
ခေါ်ရ၏၊ အကြောင်းမူကား၊ ငါသည်သင့်ကို
များစွာသောလူအမျိုးတို့၏အဘအရာ၌ခန့်ထား
၆ ပြီ။- ငါသည်သင့်ကို အလွန် ပွားများစေမည်၊
သင် အားဖြင့် လူအမျိုးမျိုးတို့ကို ဖြစ်စေမည်၊
သင်၏အမျိုး အနွယ်၌လည်း ရှင်ဘုရင်ဖြစ်ရ
၇ ကြလိမ့်မည်။-ငါသည်သင်၏ဘုရား၊သင့်နောက်
၌သင့်အမျိုး အနွယ်၏ဘုရားဖြစ်မည်ဟု သင်
နှင့်သင်၏အမျိုးအနွယ်အစဉ်အဆက်တို့၌၊ငါ
၈ ပဋိညာဉ်ကိုထာဝရပဋိညာဉ်ဖြစ်စေမည်။- သင်
သည်ယခုဧည့်သည်ဖြစ်၍နေသောပြည်တည်း
ဟူသော၊ ခါနာန်ပြည် တခွင်လုံးကို၊ သင်
အား၎င်း၊ သင့် နောက်၌ သင်၏အမျိုး အနွယ်
အား၎င်း၊ အစဉ်အမြဲအပိုင်ပေးမည်၊ သူတို့၏
ဘုရားသည်းငါဖြစ်မည်ဟုမိန့်မြွက်တော်မူ၏၊
၉ တဖန်ဘုရားသခင်က၊ သို့ဖြစ်၍သင်နှင့်တ
ကွသင့်နောက်၌သင်၏အမျိုးအနွယ်အစဉ်အ
ဆက်တို့သည်၊ ငါ၏ပဋိညာဉ်ကိုစောင့်ရှောက်
၁၀ ရကြမည်၊- သင်နှင့်တကွသင့်နောက်၌ သင်၏
အမျိုး အနွယ်သည်၊ ရှေ့မှာစောင့်ရှောက်ရ
သောငါ၏ပဋိညာဉ်ဟူမူကား၊သင်တို့တွင်ယောက်ျား
ယောက်ျားတိုင်း၊ အရေဖျားလှီး မင်္ဂလာကို ခံရ
၁၁ မည်၊-အရေဖျားလှီးမင်္ဂလာသည်၊ ငါနှင့်သင်
တို့ဖွဲ့သော ပဋိညာဉ်၏ လက္ခဏာသက်သေဖြစ်
၁၂ ရလိမ့်မည်၊-သင်တို့အမျိုးအစဉ်အဆက်တို့၌
ယောက်ျားယောက်ျားတိုင်း၊ ကိုယ်အိမ်၌ ဖွားသော
သူဖြစ်စေ၊ ကိုယ်အမျိုး မဟုတ်၊ တပါး အမျိုး
သား၌ငွေနှင့်ဝယ်သောသူဖြစ်စေ၊အသက်ရှစ်
ရက်ပြောက်လျှင်၊ အရေဖျားလှီးမင်္ဂလာကိုခံရ
၁၃ မည်၊- ကိုယ်အိမ်၌ဖွားသောသူ၊ကိုယ်ငွေနှင့်
ဝယ်သောသူသည်၊အရေဖျားလှီးမင်္ဂလာကိုခံ
ရမည်၊ ငါ့ပဋိညာဉ်သည်၊ သင်တို့၏ အသား၌
၁၄ ထာဝရပဋိညာဉ်ဖြစ်လိမ့်မည်၊- အရေဖျားမလှီး
အရေ ဖျား လှီး မင်္ဂလာ ကို မခံသော ယော
ယောက်ျားကိုသူ၏အမျိုးမှပယ်ရှင်းရမည်၊ထိုသူ
သည် ငါ့ပဋိညာဉ်ကို ဖျက်လေပြီဟု၊ အာဗြဟံ
အားမိန့်တော်မူ၏။
၁၅ တဖန်ဘုရားသခင်က၊သင်၏မယားစာရဲ ကို
မူကား၊စာရဲဟူသောအမည်ဖြင့်မခေါ်ရ၊ စာရာ
၁၆ ဟူသောအမည်ဖြင့်ခေါ်ရမည်၊-သူ့ကိုငါကောင်း
ကြီးပေး၍၊ သူအားဖြင့်လည်း၊ သင်အားသား
ကိုပေးမည်၊ အကယ်စင်စစ်သူ့ကိုကောင်းကြီး
ပေး၍၊သူသည်လူအမျိုးမျိုးဖြစ်လိမ့်မည်၊ သူ၏
အမျိုးအနွယ်၌လည်း၊ အပြည်ပြည်သောရှင်
ဘုရင်ဖြစ်ရကြလိမ့်မည်ဟု၊ အာဗြဟံအားမိန့်
၁၇ တော်မူ၏။- ထိုအခါ အာဗြဟံ သည် ပြပ်ဝပ်
လျက်၊ အသက်တရာရှိသောသူသည်သားကိုရ
လိမ့်မည်လော၊ အသက်ကိုးဆယ်ရှိသောစာရာ
သည်သားကိုဖွားလိမ့်မည်လောဟုရယ်လျက်၊
၁၈ စိတ်နှစ်လုံးထဲမှာဆောင်းစေပြီးလျှင်- ဣရှမေ
လသည်ရှေ့တော်၌ အသက်ရှင်ပါစေသောဟု
၁၉ ဘုရားသခင်ကို လျှောက်သော အခါ- ဘုရား
သခင်က၊ သင်၏ မယား စာရာသည် သင်အား
သားကိုဖွားလိမ့်မည်၊ထိုသားကိုဣဇာက်
အမည်ဖြင့်မှည့်ရမည်၊ သူ၌၎င်း၊သူ့နောက်မှသူ
၏အမျိုးအနွယ်၌၎င်း၊ ငါ၏ပဋိညာဉ်ကိုထာဝရ
၂၀ ပဋိညာဉ်ဖြစ်စေမည်၊- ဣရှမေလအမှု၌ကား
သင်၏စကားကို ငါနားထောင်၏၊ သူ့ကို ငါ
ကောင်းကြီးပေး၏၊သူ့အနွယ်ကိုတိုးပွားစေ၍
သူ့ကို အလွန် များပြား စေမည်၊ သူသည် မင်း
သားဆယ်နှစ်ပါး တို့၏အဘဖြစ်လိမ့်မည်၊ ကြီး
သောလူမျိုး ဖြစ်စေခြင်းငှါ လည်း ငါပြုမည်၊-
၂၁ ထိုသော်လည်း၊နောင်နှစ်၊ဤအချိန်၊ချိန်းချက်သောအချိန်
တွင်၊စာရာသည်သင်အားဖွားလတ့်သောသား
ဣဇာက်၌၊ငါ၏ပဋိညာဉ်ကိုငါတည်စေမည်ဟု
၂၂ မိန့်တော်မူပြီးလျှင်၊- မိန့်မြွက်တော်မူသည်ကိုပြီး၍၊ ဘုရားသခင်သည် အာဗြဟံထံမှ တက်ကြွ
တော်မူ၏။
၂၃ အာဗြဟံသည်လည်း၊သားဣရှမေလမှစ၍၊
ကိုယ်အိမ်၌ ဖွားသောသူအပေါင်း၊ ကိုယ်ငွေ
နှင့်ဝယ်သောသူအပေါင်းတည်းဟူသော၊ အာ

ဖြဟံအိမ်နှင့်ဆိုင်သော ယောကျာ်း အပေါင်း
ထို့ကိုယူ၍၊ ဘုရားသခင် မိန့်တော် မူသည် အ
တိုင်း၊ တနေ့ချင်းတွင်အရေဖျားလှီး မင်္ဂလာကို
၂၄ ပေးလေ၏။— အာဗြဟံသည်၊ကိုယ်တိုင် အရေ
ဖျားလှီး မင်္ဂလာကို ခံသောအခါ၊ အသက်ကိုး
၂၅ ဆယ်ကိုးနှစ်ရှိ၏။— သားဣရှမေလသည်အရေ
ဖျားလှီး မင်္ဂလာကို ခံသော အခါ၊ အသက်တ
၂၆ ဆယ်သုံးနှစ်ရှိ၏။— တနေ့ချင်းတွင်အာဗြဟံနှင့်
သား ဣရှ မေလသည် အရေ ဖျားလှီး မင်္ဂလာ
၂၇ ကိုခံလေ၏။— သူ၏အိမ်၌ဖွားသောသူ၊ တပါး
အမျိုးသား၌ သူ၏ငွေနှင့် ဝယ် သော သူ၊ သူ၏
အိမ် နှင့် ဆိုင် သော ယောကျာ်း အ ပေါင်း တို့
သည်၊ သူနှင့်အတူ အရေဖျားလှီးမင်္ဂလာကို ခံ
ကြလေ၏။

၁၈

ထာဝရ ဘုရားသည် မံရေသပိတ်တောနား
၌၊ အာဗြဟံ အား ထင်ရှား တော် မူသည် အ
ကြောင်းအရာဟူမူကား၊နေပူသောအချိန်တွင်၊
၂ အာဗြဟံသည် တဲတံခါးဝ၌ ထိုင်လျက်— မျှော်
ကြည့်၍၊ မိမိရှေ့မှာ လူသုံးယောက် ရပ်နေကြ
သည်ကို မြင်သောအခါ၊ ခရီးဦးကြို ပြုခြင်းငှါ
၃ တဲတံခါးဝမှပြေး၍ မြေသို့ဦးညွှတ်ချလျက်—အ
ကျွန်ုပ်သခင်၊ ရှေ့တော်၌ အကျွန်ုပ်သည် မျက်
နှာရလျှင်၊ ကိုယ်တော်ကျွန်မှလွန်၍ မသွားပါ
၄ နှင့်။— ရေအနည်းငယ်ကိုယူခဲ့ပါရစေ၊ ခြေကို
ဆေးပြီးလျှင် သစ်ပင်အောက်၌လျောင်းနေကြ
၅ ပါတော့။— မုန့်အနည်းငယ် ကိုလည်း ယူခဲ့ပါ
မည်၊ အမောအပန်းပြေသောအခါသွားကြပါ
တော့၊ ထိုသို့သောကျေးဇူးတော်ကို ခံစေခြင်း
ငှါ၊ ကိုယ်တော်ကျွန်ရှိရာသို့ရောက်ပါပြီဟုဆို
၏၊ ထိုသူတို့ကလည်း၊ပြောသည်အတိုင်းပြုပါ
၆ တော့ဟုဆိုကြ၏။—အာဗြဟံသည်လည်း၊တဲအ
တွင်း၌ရှိသောစာရာဆီသို့အလျင်အမြန်ဝင်ပြီး
လျှင်၊ ဂျုံမုန့်ညက်သုံးစလယ်ကိုအသေ့ဖွင်၍
၇ နယ်ပါ၊ ပေါင်မုန့်ကိုလုပ်ပါဟုဆိုလေ၏။— တ
ဖန်နွားစုသို့ ပြေး၍ နုထွား ကောင်းမွန် သော
နွားသငယ်ကိုယူခဲ့၍၊ လုလင်၌အပ်သဖြင့်မြန်
၈ မြန်ပွင်ဆင်စေ၏။— ထိုနောက်၊နို့နှင့်နို့တမ်းကို
၎င်း၊ပွင်ဆင်သောနွားသငယ်ကို၎င်ယူ၍၊ထိုသူ
တို့ရှေ့၌ထည့်ပြီးလျှင်၊ သစ်ပင်အောက်၊ သူတို့
အနားမှာရပ်နေ၍၊ သူတို့သည်စားကြ၏။— ပြီး
သောအခါ၊ သင်၏မယားစာရာသည် အဘယ်
မှာရှိသနည်းဟုမေးကြလျှင်၊ တဲအတွင်း၌ရှိပါ
၁၀ သည်ဟု ပြန်ပြော၏။— ထိုသူတို့တွင် တပါးက
လည်း၊ ဖွားမြင်ချိန်စေ့သောအခါ၊ ငါသည်သင့်ဆီ
သို့ဆက်ဆက်ပြန်လာဦးမည်၊ ထိုအခါသင်၏မ
ယားစာရာသည်သားကိုရလိမ့်မည်ဟုပြောဆို၏၊
ထိုသို့ဆိုသောသူ၏နောက်၌ တံခါးဝအနားမှာ၊
၁၁ စာရာရှိသော့ကြောင့်ထိုစကားကိုကြား၏။— ထို
အခါ အာဗြဟံနှင့်စာရာသည် အသက်အရွယ်
ကြီးရင့်လှပြီ၊ စာရာသည်မိန်းမတို့၌ဥတုရောက်မြဲ
၁၂ ရှိသည်အတိုင်းမရောက်ပြီ။— ထိုကြောင့် စာရာ
က၊ငါလည်းအိုပြီ၊သခင်လည်းအိုပြီ၊သို့ဖြစ်၍
ငါသည် ပျော်မွေ့ခြင်း ရှိလိမ့်မည်လောဟု ဆို
၁၃ လျက်၊တိတ်ဆိတ်စွာရယ်လေ၏။—သင်၏မယား
စာရာက၊ အကယ်၍ ငါသည်အိုပြီးမှ၊ သားကို
ဖွားလိမ့်မည်လောဟုဆိုလျက်၊အဘယ်ကြောင့်
၁၄ ရယ်သနည်း။— ထာဝရဘုရား မတတ်နိုင်သော
အမှုတစုံတခုရှိသလော၊ချိန်းချက်သောဖွားမြင်
စေ့သောအခါ၊ သင့်ဆီသို့ ငါပြန်လာ၍၊ စာရာ
သည်သားကိုရလိမ့်မည်ဟု၊ထာဝရဘုရားသည်
၁၅ အာဗြဟံအား မိန့်တော်မူ၏။— စာရာကလည်း၊
ကျွန်မ မရယ်ပါဟု၊ ကြောက်၍ ငြင်းလေ၏၊ မ
ဟုတ်ဖူး၊သင်ရယ်ပြီဟုမိန့်တော်မူ၏။
၁၆ ထိုလူတို့သည် ထိုအရပ်ကထ၍ သောဒုံမြို့သို့
မျက် နှာ ပြုလျက် သွားကြ၏၊ အာဗြဟံ သည်
၁၇ လည်းသူတို့ကိုပို့ခြင်းငှါလိုက်လေ၏။— ထာဝရ
ဘုရားကလည်း၊ငါပြုမည်အမှုကိုအာဗြဟံအား
၁၈ မဖော်မပြဘဲ ဖုံးထားရမည်လော။— အာဗြဟံ
သည်ကြီးမြတ်၍၊ တန်ခိုးနှင့်ပြည့်စုံသောလူမျိုး
ဖြစ်လိမ့်မည်၊ လူမျိုးအပေါင်းတို့သည် သူအား
၁၉ ဖြင့်ကောင်းကြီးမင်္ဂလာကိုခံရကြလိမ့်မည်။—အ
ကြောင်းမူကား၊ သူသည်မိမိနောက်၌ဖြစ်သော
သားများ၊အိမ်သူများတို့အားပညတ်မည်အရာ
ကိုငါသိ၏၊ သူတို့သည်လည်း ထာဝရဘုရား၏
တရားလမ်းသို့လိုက်၍၊ဟုတ်မှန်ဖြောင့်မတ်စွာ
ကျင့်ကြလိမ့်မည်၊သို့ဖြစ်၍ဂတိတော်ရှိသည်အ
တိုင်း၊ ထာဝရဘုရားသည်အာဗြဟံ၌ပြုရသော
၂၀ အခွင့်ရှိလိမ့်မည်ဟုအကြံတော်ရှိ၏။—တဖန်ထာ
ဝရဘုရားက၊ သောဒုံမြို့၊ ဂေါမောရမြို့၌ ကျေး
ကြော်သော အသံသည် ကြီး၍၊ အထွန်း အပြစ်
၂၁ ထေးသော့ ကြောင့်၊— ယခု ငါသွား၍ ငရှေ့သို့
ရောက်ခဲ့ပြီးသော ကျေးကြော်ခြင်း ရှိသည် အ
တိုင်း၊ သူတို့သည်အမှန်ပြုသည်မပြုသည်ကိုငါ

ကြည့်ရှုမည်၊ မပြုလျှင် မပြုကြောင်းကို ငါသိ
၂၂ မည်ဟုမိန့်တော်မူ၏။-ထိုသူတို့သည်ထိုအရပ်မှ
မျက်နှာလှည့်၍သောဒုံမြို့သို့သွားကြ၏။ အာဗြ
ဟံ မူကား၊ ထာဝရ ဘုရား ရှေ့ တော်၌ ရပ်နေ
လျက်ရှိသေး၏။
၂၃ ထိုအခါ အာဗြဟံချဉ်းကပ်၍၊ ကိုယ်တော်
သည် ဖြောင့်မတ်သောသူတို့ကို၊ မတရားသော
၂၄ သူတို့နှင့်တကွဖျက်ဆီးတော်မူမည်လော။- ထို
မြို့တွင်ဖြောင့်မတ်သောသူငါးဆယ်ရှိလျှင်၊ဖျက်
ဆီးတော်မူမည်လော။ ဖြောင့်မတ်သောသူငါး
ဆယ်ပါသောမြို့ကို သူတို့အတွက် မနှစ်မြောဘဲ
၂၅ ဖျက်ဆီးတော်မူမည်လော။- ထိုသို့ပြု၍ ဖြောင့်
မတ်သောသူတို့ကို မတရားသောသူတို့နှင့်တကွ
ကွပ်မျက်ခြင်းအမှုသည် ကိုယ်တော်နှင့်ဝေးပါ
စေသတည်း၊ ဖြောင့်မတ်သောသူတို့ကိုမတရား
သော သူတို့ကဲ့သို့ ခံစေသော အမှုသည် ကိုယ်
တော်နှင့် ဝေးပါစေသတည်း၊ မြေကြီးလုံးကိုစီ
ရင်တော် မူသောသခင်သည်၊ တရားသဖြင့် ပြု
၂၆ တော်မူမည်မဟုတ်လောဟုလျှောက်ဆို၏။-ထာ
ဝရ ဘုရားကလည်း၊ သောဒုံမြို့၌ ဖြောင့်မတ်
သောသူငါးဆယ်ကိုငါတွေ့လျှင်၊ သူတို့အတွက်
ထိုအရပ် လုံးကို ငါနှစ်မြောမည်ဟု မိန့်တော်မူ
၂၇ ၏။ တဖန်အာဗြဟံက၊ အကျွန်ုပ်သည်မြေမှုန့်
နှင့်ပြာသက်သက် ဖြစ်သော်လည်း၊ ဘုရားရှင်
၂၈ ကိုယာစုလျှောက်မည်ဟုအားထုတ်ပါ၏။-ဖြောင့်
မတ်သောသူငါးဆယ်တို့တွင်ငါးယောက်မပြည့်
လျှင်၊ ထို ငါး ယောက် မပြည့် သော အတွက်
ကြောင့်၊ ထိုမြို့လုံးကိုဖျက်ဆီးတော်မူမည်လော
ဟုမေးလျှောက်ပြန်သော်၊ထိုမြို့၌လေးဆယ်ငါး
ယောက်ကို ငါတွေ့လျှင်၊ ငါမဖျက်ဆီးဟု မိန့်
၂၉ တော်မူ၏။- တဖန်တုံ၊ထိုမြို့၌လေးဆယ်ကိုတွေ့
ကောင်း တွေ့တော် မူလိမ့်မည်ဟု လျှောက်ဆို
ပြန်လျှင်၊ ထို လေးဆယ် အတွက် ငါမပြုဘဲနေ
၃၀ မည်ဟုမိန့်တော်မူ၏။- တဖန်တုံ၊ ဖိုဘုရားရှင်၊
စိတ်မြိုတော်မမူပါနှင့်၊ အကျွန်ုပ် လျှောက်ပါရ
စေ၊ ထိုမြို့၌ သုံးဆယ်ကိုတွေ့ကောင်းတွေ့တော်
မူလိမ့်မည်ဟု လျှောက်ဆိုပြန်လျှင်၊ ထိုမြို့၌သုံး
ဆယ်ကိုငါတွေ့လျှင်၊ ငါမပြုဟု မိန့်တော်မူ၏။-
၃၁ တဖန်တုံ၊ အကျွန်ုပ်သည်ထာဝရဘုရားကိုယာစု
လျှောက်မည်ဟု အားထုတ်ပါ၏။ ထိုမြို့၌ နှစ်
ဆယ်ကို တွေ့ကောင်း တွေ့တော်မူလိမ့်မည်ဟု
လျှောက် ဆိုပြန်လျှင်၊ နှစ်ဆယ် အတွက် ငါမ
၃၂ ဖျက်ဆီးဘဲနေမည်ဟုမိန့်တော်မူ၏။- ဖိုဘုရား
ရှင်၊ စိတ်မြိုတော်မမူပါနှင့်၊ သဉ်တကြိမ်အကျွန်ုပ်
လျှောက် ပါရစေဦး။ ထိုမြို့၌ တ ဆယ် ကို တွေ့
ကောင်း တွေ့တော် မူလိမ့်မည်ဟု လျှောက်ဆို
ပြန်လျှင်၊ တဆယ်အတွက် ငါမဖျက်ဆီးဘဲနေ
၃၃ မည်ဟုမိန့်တော်မူ၏။-ထာဝရဘုရားသည်၊အာ
ဗြဟံနှင့် နှုတ်ဆက်ခြင်းအမှု ကုန်စင်ပြီးမှ၊ကြွ
သွားတော်မူ၏။ အာဗြဟံသည်လည်းမိမိနေရာ
အရပ်သို့ပြန်လေ၏။

## ၁၉

၁ ကောင်းကင်တမန် နှစ်ပါးတို့သည် ညဦးအခ
ျိန်၌သောဒုံမြို့သို့ရောက်လာ၏။ လောတသည်
မြို့တံခါးဝ၌ထိုင်လျက်သူတို့ကိုမြင်လျှင်၊ခရီးဦး
၂ ကြိုပြုခြင်းငှါထ၍၊ မြေ၌ဦးညွှတ်ချလျက်၊- အ
ကျွန်ုပ်သခင်တို့၊ ကိုယ်တော်တို့ကျွန်၏ အိမ်သို့
ဝင်၍တညည့်လုံးနေကြပါ။ ခြေကိုဆေးကြပါ။
နံနက်စောစောထ၍ ကြွသွားကြပါလော့ဟုဆို
လေ၏။ ကောင်းကင်တမန်တို့က၊ငါတို့သည်မ
ဝင်၊ တညည့်လုံး ထမ်း၌ နေတော့မည်ဟု ဆို
၃ သော် လည်း၊- ကြပ်ကြပ် သွေးဆောင် သော
ကြောင့်၊ တဖန်လောတ နေရာသို့လှည့်၍၊ သူ၏
အိမ်သို့ဝင်ကြ၏။ လောတသည်၊သူတို့အဖို့ပွဲ
လုပ်၍၊တဆေးမပါသောမုန့်ကိုပေါင်းပြီးမှ၊သူ
တို့သည်စားကြ၏။
၄ ထိုသူ တို့ သည် မ အိပ် မှီ၊ သောဒုံ မြို့သား
ယောကျ်ား အကြီး အငယ်၊ အရပ်ရပ်က လာ
သော သူအပေါင်း တို့သည် အိမ်ကို ဝိုင်း၍၊-
၅ လောတကို ဟစ်ခေါ်လျက်၊ ယနေ့ညမှာ သင့်
အိမ်သို့ ဝင်သော လူတို့သည် အဘယ်မှာ ရှိသ
နည်း။ ထိုသူတို့နှင့်ငါတို့သည်ဆက်ဆံလိုသည်
ဖြစ်၍၊ငါတို့ထံသို့ထွက်စေလော့ဟု ဆိုကြ၏။
၆ လောတသည်လည်း၊တံခါးပြင်မှာသူတို့ထံသို့
ထွက်၍၊ မိမိနောက်၌ တံခါးကိုပိတ်ပြီးလျှင်၊-
၇ ညီအစ်ကိုတို့၊ အဓမ္မအမှုကို ဤမျှလောက်မပြု
၈ ကြပါနှင့်။- အကျွန်ုပ်၌ ယောကျ်ားနှင့်မဆက်
ဆံသေးသောသမီး နှစ်ယောက်ရှိပါ၏။ သူတို့ကို သင်
တို့ထံသို့ ထုတ်ရသောအခွင့်ကိုပေးကြပါလော့။
သူတို့၌ပြုချင်သမျှ ပြုကြပါလော့။ ဤလူတို့၌ အ
လျှင်းမပြုကြပါနှင့်။ အကြောင်းမူကား၊ သူတို့
သည် အကျွန်ုပ် အိမ်မိုးအရိပ်ကို ခိုနေပါ၏ဟု
၉ တောင်းပန်သော်လည်း၊- သူတို့က၊ဆုတ်လော့
ဟု ဆိုကြ၏။တဖန်ကား၊သင်သည်တည်းခိုခြင်း

ငါသည်ရောက်လာသည်နှင့်၊ တရားသူကြီးလုပ်
ရမည်လော၊ ယခုမှာ ထိုလူတို့၌ပြုသည်ထက်၊
သင်၌သာ၍ဆိုးသောအမှုကိုပြုမည်ဟုဆိုလျက်၊
လောတကို ကြပ် ကြပ် မိ၍၊ တံခါး ကို ထည်း
၁၀ ဖေါက်ခြင်းငှါချည်းကပ်ကြ၏၊-ထိုအခါ
ကောင်းကင် တမန် တို့သည် လက်ကို ဆန့်၍၊
လောတကိုမိမိတို့နေရာအိမ်အတွင်းသို့ဆွဲသွင်း
၁၁ ပြီးလျှင်၊ တံခါးကိုပိတ်ကြ၏၊- အိမ်တံခါးနား
မှာရှိသောသူအကြီးအငယ်တို့ကို၊ မျက်မိကန်း
စေခြင်းငှါဒဏ်ခတ် သဖြင့်၊ သူတို့သည်တံခါး
ကိုရှာ၍ပင်ပန်းခြင်းသို့ရောက်ကြ၏။
၁၂ ကောင်းကင်တမန်တို့ကလည်း၊ ဤအရပ်၌
သင်နှင့်ဆိုင်သောသူ ရှိသေးသလော၊သားသို့မ
ဟုတ်၊ မြို့ထဲမှာ သင်၌ ရှိသမျှကို ဤအရပ်က
၁၃ ထုတ်ဆောင်လော့။- ဤအရပ်ကို ငါ တို့ သည်
ဖျက်ဆီးရမည်၊ အကြောင်းမူကား၊ အရပ်သား
တို့သည်ထာဝရဘုရားရှေ့တော်မှာအလွန်ကျော်
ကြားခြင်းရှိသည်ဖြစ်၍၊ ဖျက်ဆီး စေခြင်းငှါ
ထာဝရဘုရားသည် ငါတို့ကို စေလွှတ် တော်မူ
၁၄ ပြီဟု လောတအား ပြောဆိုကြ၏၊- လောတ
ထွက်၍၊သမီးနှင့်စုံဖက်သောသူ၊ မိမိသမက်တို့
အား၊ ထကြ၊ ဤအရပ်မှထွက်သွားကြ၊ ဤမြို့
ကိုထာဝရဘုရား ဖျက်ဆီး တော်မူ မည်ဟုဆို
သော်လည်း၊ ကျီစားသောနှင့်ရှိသည်ဟု၊သမက်တို့
ထင်ကြ၏။
၁၅ မိုဃ်းသောက် သောအခါ၊ ကောင်းကင် တ
မန်တို့သည်လောတကိုဆော်လျက်၊ သင်သည်
ထ၍၊ ဤအရပ်၌ ရှိသော မယားနှင့် သမီး နှစ်
ယောက်တို့ကိုယူသွားလော့၊သို့မဟုတ်၊မြို့၏အ
ပြစ်၌ ဆုံးခြင်းသို့ ရောက်လိမ့်မည်ဟု ဆိုသော်
၁၆ လည်း၊- သူသည် ဖင့်နွဲ့ သောအခါ၊ ထာဝရ
ဘုရားသနားတော်မူသောကြောင့်၊ကောင်းကင်
တမန် တို့သည်၊ သူနှင့် သူ၏ မယား၊ သူ၏ သမီး
နှစ်ယောက်တို့ကို လက်ဆွဲ၍၊ မြို့ပြင်သို့ထုတ်
ဆောင်ကြ၏။
၁၇ ပြင်သို့ရောက်သောအခါ၊သင်သည်အသက်
ချမ်းသာရခြင်းငှါပြေးလော့၊နောက်သို့ကြည့်၍
မကြည့်နှင့်၊ မြေညီသောအရပ်၌ အလျှင်းမနေ
နှင့်၊ တောင်ပေါ်သို့ပြေးလော့၊ သို့မဟုတ်ဆုံး
၁၈ လိမ့်မည်ဟု ဆိုလေ၏၊- လောတကလည်း၊ အ
၁၉ ရှင်သခင်၊ထိုသို့မဆိုပါနှင့်၊- ယခုမှာ ကိုယ်
တော်ကျွန်သည် ကျေးဇူးတော်ကိုခံရ၍ ကြီးစွာသော ကရုဏာ ... အ
ကျွန်ုပ်အသက် ချမ်းသာစေသဖြင့်၊ အကျွန်ုပ်၌
ပြုတော်မူသော ကရုဏာ ကျေးဇူး ကြီးပြားဖြစ်
ပါ၏၊ထေားလွတ်၍ တောင်ပေါ်သို့မပြေးနိုင်ပါ၊
ဘေးတစုံတခု တွေ့၍သေမည်ကိုစိုးရိမ်ပါ၏၊-
၂၀ ကြည့်ပါ၊ထိုမြို့နီးပါ၏၊ပြေးသာပါ၏၊ငယ်သော
မြို့လည်း ဖြစ်ပါ၏၊ ထေား လွတ်၍ ထို အရပ်သို့
ပြေးပါရစေ၊ ထိုမြို့သည် ငယ်သောမြို့ မဟုတ်
လော၊သို့ပြေးလျှင်၊ အသက်ချမ်းသာရပါမည်
၂၁ ဟုလျှောက်ဆို၏၊- ထိုသူကလည်း၊ ကြည့်ပါ၊
ဤအမှု အရာ၌လည်း၊ သင်၏စကားကို ငါနား
ထောင် စေခြင်းငှါ၊ ထိုမြို့ အတွက် တောင်းပန်
၂၂ သောကြောင့်ငါမဖျက်ဆီး၊-ထေားလွတ်ခြင်းငှါ
ထိုမြို့သို့ အလျင် အမြန် ပြေး လော့၊ ထို မြို့သို့
မရောက်မှီ၊ငါသည်အဘယ်အမှုကိုမျှမပြုနိုင်ဟု
ဆိုလေ၏၊ ထိုကြောင့် ထိုမြို့ကို ဇောရမြို့ဟု သ
၂၃ မုတ်ကြ၏၊-လောတသည်ဇောရမြို့သို့ဝင်သော
အခါ၊ မြေ ကြီး ပေါ်မှာ နေ ထွက် မှိန် ဖြစ် ထ
၂၄ တည်း၊- ထိုအခါထာဝရဘုရားသည်ကောင်း
ကင်ထက်၊အထံတော်မှသောဒုံမြို့နှင့်ဂေါမောရ
မြို့အပေါ်သို့ကန့်နှင့် မီးမိုဃ်းကို ရွာစေတော်မူ
၂၅ ၏၊-ထိုမြို့တို့ကိုငှင်၊မြို့နှင့်အရပ်တရှောက်လုံးကို
ငှင်၊မြို့သားအပေါင်းတို့ကိုငှင်၊ မြေ၌ပေါက်သ
၂၆ မျှကိုငှင်ဖျက်ဆီးတော်မူ၏၊-လောတ၏မယား
မူကား၊ နောက်သို့လှည့်ကြည့်၍ ဆားတိုင်ဖြစ်
လေ၏။
၂၇ နံနက်စောစောအာဗြဟံသည်ထ၍၊ ထာဝရ
ဘုရားရှေ့တော်၌ရပ်နေသောအရပ်သို့သွား၍ပြီး
၂၈ လျှင်- သောဒုံမြို့နှင့် ဂေါမောရမြို့မှစသောမြို့နှင့်
အရပ်တရှောက်လုံးကိုကြည့်ရှု၍၊ မီးဖို၌အခိုး
ကဲ့သို့၊ တပြည်လုံးအခိုးတက်သည်ကိုမြင်လေ
၂၉ ၏၊- ထိုသို့ဘုရားသခင်သည် မြို့နှင့်ထဲမှာရှိသော
မြို့တို့ကို ဖျက် ဆီး သော အခါ၊ အာဗြ ဟံကို
အောင်းမေ့တော်မူ၏၊လောတနေသောမြို့တို့ကို
မှောက်လှဲသောအခါ၊ မှောက်လှဲရာထဲက လော
တကိုလွှတ်လိုက်တော်မူ၏။
၃၀ လောတသည် ဇောရ မြို့မှထွက် ၍၊ သမီး နှစ်
ယောက်နှင့်တကွတောင်ပေါ်မှာနေ၏၊ ဇောရမြို့
၌မနေဝံ့၍၊ သမီးနှစ်ယောက်နှင့်တကွ ဂူမှင်၌ ရှိ
၃၁ ၏၊-သမီးအကြီးက၊ငါတို့အဖသည်အိုပြီ၊မြေကြီးသား
အပေါင်းတို့၏ထုံးစံအတိုင်း၊ ငါတို့ထံသို့ဝင်
ရသော ယောကျ်ား တယောက်မျှ မြေပေါ်မှာ
မရှိ၊- လာကြ၊ငါတို့အဖကိုစပျစ်ရည်ကိုတိုက်ကြ

ငါတို့အဖ၏အမျိုးအနွယ်ကို စောင့်မည်၊ သူ
၃၃ နှင့်အိပ်ကြနို့တညီမကိုပြောဆို၏။-ထိုနေ့ညမှာ
ထုတို့သည်အဖကို စပျစ်ရည်တိုက် ပြီးလျှင်၊တို့
အကြီးသည်ဝင်၍ အဖနှင့်အိပ်လေ၏၊ သူအိပ်
ကြောင်းကိုငှင်၊ ထကြောင်းကိုငှင် အဖ မသိ။-
၃၄ နက်ဖန်နေ့တွင် အကြီးကသည်း၊ မနေ့ညမှာငါ
သည်အဖနှင့်အိပ်လေပြီ၊ ယနေ့ညတဖန်သူကို
စပျစ်ရည်တိုက်ကြနို့၊ သင်သည်ဝင်၍အဖ၏အ
မျိုးအနွယ်ကိုစောင့်မခြင်းငှါ၊သူနှင့်အိပ်လော့
၃၅ တညီမကို ပြောဆို၏။- ထိုနေ့ည၌သည်း သူတို့
သည်အဖကို စပျစ်ရည်တိုက် ပြီးလျှင်၊ အငယ်
သည်ဝင်၍အဖနှင့်အိပ်လေ၏၊အိပ်ကြောင်းကို
၃၆ ငှင်၊ထကြောင်းကိုငှင်အဖမသိ။- ထိုသို့လောတ
၏တို့ နှစ်ယောက် တို့သည်၊ မိမိ အဖ အားဖြင့်
၃၇ ပဋိသန္ဓေစွဲနေ၏။-တို့းအကြီးသည်သားကိုဖွား
၍မောဘအမည်ဖြင့်မှည့်လေ၏၊ ထိုသူသည်ယ
နေ့တိုင်အောင် ရှိသောမောဘ အမျိုးသားတို့၏
၃၈ အဖဖြစ် သတည်း။- တို့းအငယ် သည်သည်း
သားကိုဖွား၍၊ ဗေနမ္မိ အမည်ဖြင့် မှည့်လေ၏၊
ထိုသူသည် ယနေ့တိုင်အောင် ရှိသော အမ္မုန်
အမျိုးသားတို့၏အဖဖြစ်သတည်း။

၂၀

၁ တဖန် အာဗြဟံသည် တောင်ပြည်သို့ ခရီး
သွားသဖြင့်၊ ကာဒေရှမြို့နှင့် ရှုရမြို့ စပ်ကြားမှာ
၂ နေ၍၊ဂေရာမြို့၌တည်းခို၏၊-ထိုအခါမိမိမယား
စာရာသည် မိမိနှမ ဖြစ်သည်ဟု၊ သူတပါးတို့
အားအာဗြဟံဆိုသောကြောင့်၊ ဂေရာမင်းကြီး
အဘိမလက်သည် မိမိလူကို စေလွှတ်၍၊ စာရာ
၃ ကိုယူစေ၏။- ညည့်အချိန်တွင်အိပ်မက်အားဖြင့်
ဘုရားသခင်သည်အဘိမလက်ဆီသို့ကြွလာ၍၊
သင်သည်လူသေဖြစ်၏၊အကြောင်းမူကား၊သင်
ယူသောမိန်းမသည်လူမယားဖြစ်၏ဟု မိန့်တော်မူ
၄ ၏။-အဘိမလက်သည်၊ ထိုမိန်းမနှင့်မပေါင်းဖော်
သေးသည်ဖြစ်၍၊ထိုဘုရားရှင်၊ဖြောင့်မတ်သော
၅ လူမျိုးကိုကွပ်မျက်တော်မူမည်လော၊-သူသည်
ငါ့နှမ ဖြစ်၏ဟု အကျွန်ုပ်အား ယောကျ်ားဆို
သည် မဟုတ်ပါလော၊ သူသည် ငါ့မောင်ဖြစ်၏
ဟု၊မိန်းမသည်းဆိုသည်မဟုတ်ပါလော၊ ဖြောင့်
မတ်သောသဘောရှိ၍၊သန့်ရှင်းသောလက်နှင့်
ဤအမှုကိုအကျွန်ုပ်ပြုပါပြီဟုလျှောက်ဆို၏။
၆ ထိုအိပ်မက်၌ ဘုရားသခင် ကလည်း၊ မှန်ပေ
၏၊ သင်သည် ဖြောင့်မတ်သော သဘောနှင့်ပြု
သည် ကိုငါသိ၏၊ သင်သည်ငါ့ကို မပြစ်မှားစေ
ခြင်းငှါ၊ သင့်ကိုငါဆီးတားပြီ၊ ထိုဖြစ်၍ထိုမိန်း
၇ မနှင့်ပေါင်းဖော်ရသောအခွင့်ကိုငါမပေး။-ထိုရ
မှာ၊ သူ၏မယားကို သူ့အား ပြန်ပေးလော့၊ သူ
သည် ပရောဖက်ဖြစ်၏၊ သင့်အဖို့ ဆုတောင်း
လျှင်၊ သင်သည်အသက်ချမ်းသာ ရလိမ့်မည်၊
ပြန်၍မပေးဘဲနေလျှင်၊သင်မှစ၍၊ သင်နှင့်ဆိုင်
သောသူအပေါင်းတို့သည် ကေန်အမှန်သေမည်
ဟုမိန့်တော်မူ၏။
၈ နံနက်စောစောအဘိမလက်သည်ထ၍၊ မိမိ
ကျွန်အပေါင်းတို့ကိုခေါ်ပြီးမှ၊အမှုအရာအလုံး
စုံကိုပြောသဖြင့်၊ ထိုသူတို့သည်အလွန်ကြောက်
၉ ကြ၏။-အာဗြဟံကိုလည်းအဘိမလက်ခေါ်၍၊
သင်သည်ငါတို့၌အဘယ်သို့ပြုသနည်း။ သင့်ကို
ငါတို့သည် အဘယ်သို့ ပြစ်မှားသောကြောင့်၊
သင်သည်ငါ၌၎င်း၊ငါ့နိုင်ငံ၌၎င်း၊ ကြီးစွာသောအ
ပြစ်ကို ရောက်စေသနည်း။ သင်သည်မပြုအပ်
သောအမှုကိုငါ၌ပြုပါသည်တကားဟု ဆိုလေ
၁၀ ၏။- တဖန်အဘိမလက်က၊သင်သည်အဘယ်
အမှုကို မြင်၍ ဤသို့ပြုသနည်းဟု အာဗြဟံကို
၁၁ မေးလျှင်၊- အာဗြဟံက၊ဤအရပ်သားတို့သည်
ဘုရားသခင်ကို မကြောက်၊ အကျွန်ုပ်၏မယား
အတွက် အကျွန်ုပ်ကို သတ်ကြလိမ့်မည်ဟု အ
၁၂ ကျွန်ုပ်ထင်သောကြောင့်၊ ထိုသို့ပြုမိပါပြီ။- သို့
သော်လည်း သူသည်အကျွန်ုပ်နှမ မှန်ပါ၏၊
အကျွန်ုပ်အဖ၏သမီးဖြစ်၏၊အမိ၏သမီးမဟုတ်၊အ
၁၃ ကျွန်ုပ် မယားလည်း ဖြစ်ပါ၏။- ဘုရားသခင်
သည် အကျွန်ုပ်ကိုအဖ၏အိမ်မှခေါ်၍လည်စေ
တော်မူသောအခါ၊ အကျွန်ုပ်က၊သင်သည်ငါ၌
ပြုရသော ကျေးဇူးဟူမူကား၊ ငါသည်သင်၏
မောင်ဖြစ်ကြောင်းကို၊ရောက်လေရာရာ၌ပြော
ရမည်ဟု၊မယားကိုမှာထားပါသည်ဟုပြန်ပြော
၁၄ လေ၏။- ထိုအခါအဘိမလက်သည်၊ သိုးနွား၊
ကျွန်ယောကျ်ား၊ ကျွန်မိန်းမတို့ကိုယူ၍၊အာဗြဟံ
အားပေးလေ၏၊မယားစာရာကိုလည်းပြန်ပေး
၁၅ ၏။- အဘိမလက်ကလည်း၊ငါ့မြေသည်သင့်ရှေ့
မှာရှိ၏၊ အလိုရှိသည်အတိုင်းနေပါဟုအမိန့်ရှိ
၁၆ ၏။- စာရာကိုလည်း၊ သင်နှင့်သင့်အပေါင်းအ
ဖော်တို့ အဖို့၊ မျက်နှာဖုံး မျှားကို ဝယ်စရာဖို့၊
သင်၏မောင်အား ငွေတထောင်ကို ငါပေးပြီဟု
အမိန့်ရှိသဖြင့်၊သူသည်လည်း၊အရာရာ၌အဆုံး
အမခံရ၏။

၁၇ အာဗြဟံသည်ထည်း၊ ဘုရားသခင်ကို ဆု
တောင်း၍၊ဘုရားသခင်သည်၊အဘိမလက်နှင့်
သူ၏မယား၊ သူ၏ကျွန်မတို့ကိုအနာပျောက်စေ
တော်မူသဖြင့်၊ သူတို့သည်သားကိုဘွားကြ၏။–
၁၈ အထက်က အာဗြဟံ၏မယား စာရာကြောင့်၊
ယေဟောဝါ ဘုရားသည်၊ အဘိမလက်၏ အိမ်သူ၊
မိန်းမတယောက်မျှပဋိသန္ဓေမယူစေခြင်းငှါ၊မီးရင်
တော်မူသတည်း၊

၂၁

၁ ယေဟောဝါဘုရားသည်၊အမိန့်တော်ရှိသည်အ
တိုင်း၊စာရာကိုအကြည့်အရှုတော်မူ၍၊ ဂတိ
တော် ရှိသည်နှင့် လျော်စွာ သူ၌ ပြုတော် မူသ
၂ ဖြင့်၊–စာရာသည်ပဋိသန္ဓေနှဲယူ၍၊ ဘုရားသခင်
အမိန့်တော်နှင့်မှိန်းချက်သောအချိန်၌၊ အာဗြ
ဟံအသက်ကြီးသောအခါ၊သူ့အားသားကိုဘွား
၃ လေ၏။– အာဗြဟံသည်ထည်း၊မိမိရသောသား
တည်းဟူသော၊ စာရာ ဘွား သော သား ကို
၄ ဣဇာက်အမည်မြင့်မှည့်လေ၏။– ဘုရားသခင်
မှာထားတော်မူသည်အတိုင်း၊ အာဗြဟံသည်
ရှစ်ရက် မြောက်သောနေ့၌၊ သားဣဇာက် ကို
၅ အရေ ဖျား လှီး မင်္ဂလာ ပေး လေ၏။– သားဣ
ဇာက်ကိုမြင်ရသောအခါ၊ အာဗြဟံသည် အ
၆ သက်တရာ ရှိသတည်း။– စာရာ ကထည်း၊ ငါ
ရယ်ရသောအခွင့်ကို ဘုရားသခင် ပေးတော်မူ
ပြီ။ဤသိတင်းကိုကြားသောသူအပေါင်းတို့သည်
ထည်း၊ငါနှင့်အတူရယ်ကြလိမ့်မည်ဟူ၍ငှင်၊–
၇ စာရာသည်သားကိုနို့တိုက်လိမ့်မည်ဟု၊အာဗြ
ဟံအားအထယ်သူပြောနိုင်ရသနည်း။သူသည်
အသက်ကြီးသောအခါ၊ငါသည်သားကို ဘွားပြီ
၈ ဟူ၍ငှင်ဆိုလေ၏၊– ထိုသူငယ် ဣဇာက်သည်
ကြီးပွား၍ နို့နှင့်ကွာလေ၏၊ နို့ကွာသော နေ့၌
အာဗြဟံသည်ပွဲကြီးလုပ်လေ၏။
၉ အဲဂုတ္တုအမျိုးသား ဟာဂရတွင်အာဗြဟံရ
သော သားသည် ဆဲရေးသည်ကို စာရာသိမြင်
၁၀ လျှင်၊– ဤကျွန်မနှင့် သူ၏သားကို နှင်ထုတ်ပါ
လော့။ ဤကျွန်မ၏သားသည် အကျွန်ုပ်၏သား
ဣဇာက် နှင့် အတူ အမွေ မခံရဟု၊ အာဗြဟံ
၁၁ အားဆိုလေ၏။– အာဗြဟံသည်း၊မိမိသားဖြစ်
သောကြောင့်၊ ထိုအမှုအလွန်ခက်သည်ဟုထင်
၁၂ လေ၏။– သို့ရာတွင်ဘုရားသခင်က၊ ထိုသူငယ်
နှင့်သင်၏ကျွန်မကြောင့်၊ဤအမှုခက်သည်ဟုမ
ထင်နှင့်၊ စာရာပြောသောစကားရှိ သူ၏စကားကို
နားထောင်လော့။ အကြောင်းမူကား၊ဣဇာက်
၁၃ ၌သာသင်၏ အမျိုးတည် လိမ့်မည်။– ကျွန်မ၏
သားသည် သင်၏အမျိုး၊ဖြစ်သောကြောင့်၊ ထု
ကိုသည်၊ လူမျိုး ဖြစ်စေ မည်ဟု အာဗြဟံအား
မိန့်တော်မူ၏။
၁၄ အာဗြဟံသည် နံနက်စောစောထ၍၊ မုန့်နှင့်ရေ
ဘူးကိုယူသဖြင့်၊ဟာဂရပခုံး၌တင်ပြီးလျှင်၊သူ
ငယ်ကိုအပ်၍ ကျွန်မကိုလွှတ်လိုက်လေ၏၊ သူ
သည်ထည်းသွား၍၊ဗေရရှေဘတော၌ဖျင့်ယည်
၁၅ လျက်နေ၏။– ဘူး၌ရေကုန်သောအခါ၊သူငယ်
၁၆ ကိုချုံမှတ် အောက်၌ထား၍၊– ငါသည်သူငယ်
သေသည်ကိုမမြင်လိုဟုဆိုလျက်၊ ခပ်ဝေးဝေး
လေး တပြစ်ခန့်သောက်သွားပြီးလျှင်၊ သူငယ်
ရှေ့မှာထိုင်၍နေသော၏၊ ထိုသို့ထိုင်၍နေစဉ်၊ သူ
၁၇ သည်အသံကိုလွှင့်၍ငိုကြွေးလေ၏–ဘုရားသခင်
သည်သူငယ်၏အသံကိုကြားတော်မူ၍၊ဘုရားသ
ခင်၏ကောင်းကင်တမန်က၊ ဟာဂရ၊ သင်၌အ
ဘယ်အမှုရှိသနည်း။ မစိုးရိမ်နှင့်၊ သူငယ်နေ
သော အရပ်ထဲက သူ၏အသံကို ဘုရားသခင်
၁၈ ကြားတော် မူပြီ၊– ထလော့၊ သူငယ်ကို ကြွ၍
ထက်နှင့်မလော့။ ငါသည်သူကိုလူမျိုးကြီး ဖြစ်
စေမည်ဟု၊ကောင်းကင်ထဲကခေါ်၍ဟာဂရအား
၁၉ မြွက်ဆို၏၊–ထိုအခါဘုရားသခင်သည်ဟာဂရ၏
မျက်စိကိုဖွင့်တော်မူသဖြင့်၊ သူသည်ရေတွင်းကို
မြင်လေသော်၊ သွား၍ဘူးကိုရေဖြည့်ပြီးလျှင်၊သူ
၂၀ ငယ်အားရေကိုတိုက်လေ၏၊–ထိုလူငယ်ဘက်၌
ထည်း၊ ဘုရားသခင်ရှိတော်မူ၏၊ သူသည်ကြီး
ပွား၍ တော၌ နေသဖြင့်၊ လေးသမား ဖြစ်လေ
၂၁ ၏၊– ပါရန်တော၌နေသည်ဖြစ်၍၊ သူ့အမိသည်
အဲဂုတ္တုပြည်မှမိန်းမတယောက်ကိုခေါ်၍သူနှင့်ထိ
မ်းမြားစေ၏။
၂၂ ထိုအခါ၊ အဘိမလက်မင်းနှင့်ဗိုလ်ချုပ်
မင်းဖိကောလတို့သည်အာဗြဟံကိုခေါ်၍၊ သင်
သည်ပြုလေရာရာ၌သင့်ထက်မှာ ဘုရားသခင်ရှိ
၂၃ တော်မူ၏၊–သို့ဖြစ်၍သင်သည်ငါကိုရင်၊ ငါ့သား
ကိုရင်၊မြေးကိုရင်မလှည့်စား၊ ငါသည်သင်၌
ကျေးဇူးပြုသကဲ့သို့၊ငါ၌ရင်၊ သင်တည်းနေရာ
ပြည်၌ရင် ကျေးဇူးပြုမည်ဟု၊ ဘုရား သခင်ကို
တိုင်တည်၍ ငါ့အားကျိန်ဆိုပါလော့ဟုပြောဆို
၂၄ ၏၊– အာဗြဟံကထည်း၊ ထိုအတိုင်းငါကျိန်ဆို
၂၅ ပါမည်ဟုပြန်ပြောလေ၏၊– အဘိမလက်မင်း၏
ကျွန်တို့သည် အနိုင်အထက်လုယူသောရေတွင်း

အကြောင်းကြောင့်၊အာဗြဟံသည်ထည်းအဘိ
၂၆ မလက်မင်းကိုအပြစ်တင်လေ၏၊- အဘိမလက်
မင်းကလည်း၊ ဤအမှုကိုအဘယ်သူပြုသည်ကို
ငါမသိ၊ သင်သည်ငါ့ကိုမပြော၊ ငါသည်ယနေ့
၂၇ တိုင်အောင် မကြားရဟုဆို၏၊- အာဗြဟံသည်
ထည်းသိုးနွားတို့ကိုယူပြီးလျှင်၊ အဘိမလက်
အားပေး၍၊ ထိုနှစ်ပါးတို့သည် ပဋိညာဉ်ပြုကြ
၂၈ ၏၊- အာဗြဟံသည်ထည်း သိုးသငယ်မ ခုနှစ်
၂၉ ကောင်တို့ကို သိုးစုနှင့် ခွဲထားလေ၏၊- အဘိမ
လက်ကလည်း၊ ခွဲထားသောဤသိုးသငယ်မ ခု
နှစ်ကောင်တို့သည်၊ အဘယ်သို့ နည်းဟု မေး
၃၀ သော်၊- အာဗြဟံက၊ဤရေတွင်းကိုငါတူးပြီဟု၊
ဤသိုးသငယ်မ ခုနှစ်ကောင်ဘို့သည် ငါ့ထက်၌
သက်သေ ဖြစ်မည့် အကြောင်း၊ ထုတို့ကို သင်
၃၁ သည်ငါ့လက်မှခံယူရမည်ဟုဆိုလေ၏၊- သို့ဖြစ်
၍၊ ထိုအရပ်၌ထိုနှစ်ပါးတို့သည်ကျိန်ဆိုသော
ကြောင့်၊ ထိုအရပ်ကိုဗေရရှေဘဟုတွင်ကြ၏၊-
၃၂ ထိုသို့ ဗေရရှေဘအရပ်၌ပဋိညာဉ်ပြုကြ၏၊ အ
ဘိမလက်နှင့် ဗိုလ်ချုပ်မင်း ဖိကောလတို့သည်
ထ၍ဖိလိတ္တိပြည်သို့ပြန်ကြ၏၊
၃၃ အာဗြဟံသည်ဗေရရှေဘအရပ်၌မန်ကျည်း
ပင်ကိုစိုက်၍၊ အစဉ်အမြဲ တည်တော်မူသော
ဘုရားသခင် တည်းဟူသော၊ ထာဝရဘုရား၏
၃၄ နာမတော်ကိုပဌနာပြုလေ၏၊- ဖိလိတ္တိပြည်မှာ
ကာလရှည်ကြာရွှာတည်းနေသတည်း။

၂၂

ထိုနောက်မှ ဘုရားသခင်သည်၊ အာဗြဟံကို
စုံစမ်းခြင်းငှါ၊ အာဗြဟံဟုခေါ်တော်မူ၍၊ အာဗြ
၂ ဟံက၊ အကျွန်ုပ်ရှိပါ၏ဟုလျှောက်လျှင်၊- သင်
သည်အလွန်ချစ်သော၊ တယောက်တည်းသော
သား ဣဇာက် ကို ယူ၍၊ မောရိ ပြည်သို့ သွား
လော့၊ငါပြမည့်သောတောင်ပေါ်မှာ၊ သူ့ကိုမီး
ရှို့ရာယဇ်ပြု၍ပူဇော်လော့ဟုမိန့်တော်မူ၏၊
၃ အာဗြဟံသည်နံနက်စောစောထ၍၊မြည်းကိုကုန်း
နှီးတင်ပြီးလျှင်၊မိမိသားဣဇာက်နှင့်၊ငယ်သား
နှစ်ယောက်ကိုခေါ်၍၊ ယဇ်မီးရှို့ရာထင်းကို ခွဲ
ပြီးမှ၊ဘုရားသခင်မိန့်တော်မူသောအရပ်သို့ထ
၄ သွားလေ၏၊- သုံးရက်မြောက်သောနေ့၌ မျှော်
၅ ကြည့်၍၊ထိုအရပ်ကိုအဝေးကမြင်လျှင်၊- ငယ်
သား၊ နှစ်ယောက်တို့အား၊ သင်တို့သည် ဤအ
ရပ်၌မြည်းနှင့်အတူနေရစ်ကြလော့၊ ငါသည်သား
နှင့်အတူထိုအရပ်သို့သွား၍၊ ကိုးကွယ်ခြင်းကို

ပြုဆဲ၊ထိုအမှုပြီးမှ၊ သင်တို့ထံသို့ပြန်လာဦးမည်
၆ ဟုဆိုလေ၏၊-ထိုအခါ ယဇ်မီးရှို့ရာထင်းကိုယူ၍၊
သား ဣဇာက် အပေါ်မှာ တင်ပြီးလျှင်၊ မီးနှင့်
ဓားကို မိမိလက်၌ကိုင်လျက်၊ နှစ်ယောက်အ
၇ တူသွားကြ၏၊-သွားကြစဉ်တွင်၊ဣဇာက်သည်
အဘအာဗြဟံကိုအဘဟုခေါ်လျှင်၊ ငါ့သား၊ ငါရှိ
၏ဟု အာဗြဟံထူးလေ၏၊ ဣဇာက်ကလည်း၊
မီးပါ၏၊ထင်းလည်းပါ၏၊ ယဇ်မီးရှို့ရာသိုးသ
ငယ်သည် အဘယ်မှာရှိသနည်းဟု မေးလျှင်၊-
၈ အာဗြဟံက၊ ငါ့သား၊ယဇ်မီးရှို့ရာသိုးသငယ်
ကိုဘုရား သခင်သည် မိမိအဘို့ ပြင်ဆင်တော်မူ
၉ လိမ့်မည်ဟုဆိုလေ၏၊-ထိုသို့နှစ်ယောက်အတူ
သွား၍၊ ဘုရားသခင်မိန့်တော်မူသောအရပ်သို့
ရောက် ကြသော အခါ၊ အာဗြဟံသည် ယဇ်
ပလ္လင်ကိုတည်၍၊ထင်းကိုခင်းပြီးလျှင်၊ သားဣ
ဇာက်ကိုချည်နှောင်၍၊ ယဇ်ပလ္လင်၌ထင်းပေါ်
၁၀ မှာ တင်ထား၏၊- မိမိလက်ကို ဆန့်၍၊ သားကို
သတ်ခြင်းငှါ၊ဓားကိုကိုင်ယူလေ၏၊
၁၁ ထိုအခါ၊ ထာဝရဘုရား၏ကောင်းကင်တမန်
က၊ အာဗြဟံ၊အာဗြဟံဟု၊ကောင်းကင်ပေါ်က
ခေါ်လေ၏၊ အာဗြဟံက၊ အကျွန်ုပ် ရှိပါ၏ဟု
၁၂ လျှောက်လျှင်၊-ထိုလုလင်ကိုမထိမခိုက်နှင့်၊အ
လျှင်းမပြုနှင့်၊သင်သည်ဘုရားသခင်ကိုကြောက်
ရွံ့သည်ဟုယခုငါသိ၏၊အကြောင်းမူကား၊သင်
၏သား၊သင်၌တယောက်တည်းသောသားကိုငါ့
အားငဲ့၍၊သင်သည်ငါ့ကိုမငြင်းဟုမိန့်တော်မူ၏၊
၁၃ ထိုအခါ အာဗြဟံသည် မျှော်ကြည့်၍၊ မိမိ
နောက်မှာချုံ၌ ချိုညိလျက် ရှိသော သိုးကို
မြင်လေ၏၊ထိုသိုးကိုသွား၍ယူပြီးလျှင်၊မိမိသား
ကိုယ်စားမီးရှို့ရာယဇ်ပြု၍ပူဇော်လေ၏၊
၁၄ ထိုအရပ်ကိုယေဟောဝါယိရေဟု အာဗြဟံ
သမုတ် လေ၏၊ ထိုသို့နှင့်အညီ၊တောင်ပေါ်မှာ
ထာဝရ ဘုရား ပြင်ဆင်တော် မူမည်ဟု၊ ယနေ့
တိုင်အောင်ဆိုလေ့ရှိသတည်း။
၁၅ တဖန် ထာဝရ ဘုရား၏ ကောင်းကင် တမန်
သည် ကောင်းကင် ပေါ်က အာဗြဟံ ကို ခေါ်
၁၆ လျက်၊- သင်သည်ဤအမှုကိုပြု၍၊သင်၏သား၊
သင်၌ တယောက်တည်းသောသားကို၊ ငါ့အား
၁၇ မငြင်းသောကြောင့်၊-ငါသည်သင့်အားအစဉ်
အမြဲ ကောင်းကြီး ပေးမည်၊ သင်၏ အမျိုးအ
နွယ်ကိုလည်း၊ကောင်းကင်ကြယ်ကဲ့သို့၎င်း၊သ
မုဒ္ဒရာသဲလုံးကဲ့သို့၎င်း၊ အစဉ်အမြဲ ပွားများစေ

မည်။သင်၏ အမျိုးအနွယ်သည် ရန်သူတို့၏မြို့
၁၈ တံခါးများကိုအမွေခံရလိမ့်မည်။-သင်၏အမျိုးအ
နွယ်အားဖြင့်၊လူမျိုးအပေါင်းတို့သည်ကောင်း
ကြီးမင်္ဂလာကို ခံရကြလိမ့်မည်ဟု၊ ငါ၏စကား
ကိုသင်နားထောင်သောကြောင့်၊ ငါသည်ကိုယ်
ကို ကိုယ်တိုင်တည်၍ကျိန်ဆို၏ဟု၊ ထာဝရဘု
၁၉ ရား၏ အမိန့်တော်ကို ဆင့်ဆိုလေ၏။- ထိုအခါ
အာဗြဟံသည် ငယ်သားတို့ ရှိရာသို့ပြန်၍၊ သူ
တို့သည်ထ ပြီးလျှင်၊ ဗေရရှေဘအရပ်သို့လိုက်
သွားကြ၏။ထိုအရပ်၌အာဗြဟံနေလေ၏။
၂၀ ထိုနောက်မှ၊ အာဗြဟံကြားသော သိတင်းစ
ကားဟူမူကား၊ သင်၏အစ်ကိုနာခေါ်၏မယား မိ
၂၁ လခါသည်သားများကို ဖွားမြင်လေပြီ။- သား
အကြီးဥဇ၊ သူ့ညီဗုဇ၊ အာရံ၏အဘကေမွေလ၊-
၂၂ ခေသက်၊ဟာဇော၊ပိလဒါရှ၊ယိဒလပ်၊ဗေသွေ
၂၃ လ တည်းဟူသော၊- သားရှစ်ယောက်တို့ ကို
အာဗြဟံအစ်ကိုနာခေါ်၏မယားမိလခါဖွားမြင်
၂၄ လေ၏။ဗေသွေလကား၊ရေဗက္ကအဘတည်း။- ရု
မာ အမည်ရှိသော နာခေါ်၏ မယားငယ် သည်
လည်း၊တေဗ၊ဂါဟံ၊သဟာရှ၊မာခါတို့ကိုဖွား
မြင်လေ၏။

၂၃

၁ စာရာသည်၊ အသက်တရာနှစ်ဆယ့်ခုနစ်နှစ်
၂ ရှိ၏။ထိုမျှသောက် အသက်ကြီးသော်၊- ခါနာန်
ပြည်၊ ဟေဗြုန်မြို့တည်းဟူသော၊ ကိရယာဘ
အမြို့၌သေလေ၏။ အာဗြဟံသည်လည်း စာရာ
ကြောင့်ညည်းတွားငိုကြွေးခြင်းငှါလာ၏။
၃ အာဗြဟံသည် မိမိမယား အသေကောင်ရှေ့
၄ ကထ၍၊ ဟေသအမျိုးသားတို့အား၊- ငါသည်
သင်တို့ထံမှာ ဧည့်သည်အာဂန္တုဖြစ်ပါ၏။ငါ၏
မယားအသေကောင်ကို ရှုထဲကွယ်မြှုပ်မည်အ
ကြောင်း။ သင်တို့တွင်သင်းချိုင်းကို ငါ့အား အ
၅ ပိုင်ပေးပါလော့ဟု ဆို၏။-ဟေသအမျိုးသားတို့
၆ က၊ အကျွန်ုပ်တို့၏သခင်၊ နားထောင်ပါ။ ကိုယ်
တော်သည်၊ အကျွန်ုပ်တို့တွင်၊ ဘုရားသခင်နှင့်
ဆိုင်သောမင်း ဖြစ်ပါ၏။ အကျွန်ုပ် တို့၏ သင်း
ချိုင်းများတွင် ရွေး၍၊ ကိုယ်တော်၏ မယားအ
သေကောင်ကို သင်းဂြိုဟ်ပါလော့။ ကိုယ်တော်
၏မယား၊အသေကောင်ကိုမသင်းဂြိုဟ် စေခြင်း
ငှါ၊အကျွန်ုပ်တို့တွင်အဘယ်သူမျှမိမိသင်းချိုင်း
ကိုမပေးဘဲ မနေပါဟု၊ အာဗြဟံအားပြန်ပြော
၇ ကြ၏။-အာဗြဟံသည်ထ၍၊ထိုပြည်သားတည်း
ဟူသော၊ဟေသအမျိုးသားများရှေ့မှာဦးညွှတ်
၈ ရှိခိုး၏။-ငါသည်ငါ၏မယားအသေကောင်ကို
ရှုထဲကွယ်မြှုပ်စေခြင်းငှါ သင်တို့အလိုရှိလျှင်၊
၉ ငါ့စကားကို နားထောင်ကြပါလော့။- သင်တို့
တွင် ငါပိုင်ထိုက်သောသင်းချိုင်း၊ ရှိစေခြင်းငှါ၊
ဇောဟာသား ဧဖရုန်သည်၊မိမိလယ်ပြင်အစွန်း
၌ရှိသော မက္ခပေလာဂူကို၊ အဖိုးထိုက် သော
ငွေနှင့် ငါ့အား ရောင်း စေခြင်းငှါ၊ ငါ့အတွက်သူ
ကိုတောင်းပန်ကြပါလော့ဟု၊ ရှိခိုး၍ပြော
၁၀ ဆို၏။-ထိုအခါဧဖရုန်သည်၊ဟေသအမျိုးသား
တို့တွင်ထိုင်လျက်ရှိ၏။ မြို့တံခါးသို့ဝင်
သောသူအပေါင်းတည်းဟူသော၊ဟေသအမျိုး
သားပရိသတ်၌၊ ဟိတ္တိအမျိုးသား ဧဖရုန်က၊
၁၁ ထိုသို့ မဟုတ်ပါ။- အကျွန်ုပ်သခင်၊ အကျွန်ုပ်
စကားကို နားထောင်ပါ။ ထိုလယ်ပြင် ကိုရှင်း၊
ထိုလယ်ပြင်၌ရှိသော ဂူကိုရှင်း၊ ကိုယ်တော်
အားအကျွန်ုပ် ပေးပါ၏။ အကျွန်ုပ် အမျိုးသား
များရှေ့၌၊ကိုယ်တော်အား အကျွန်ုပ်ပေးပါ၏။
ကိုယ် တော်၏ မယား အသေ ကောင်ကို သင်း
ဂြိုဟ်ပါဟု၊အာဗြဟံအားပြန်ပြောလေ၏။
၁၂ အာဗြဟံ သည်လည်း၊ ထိုပြည်သားများရှေ့
မှာဦးညွှတ်ရှိခိုးလျက်၊ အကယ်၍ ငါ့စကားကိုနား
၁၃ ထောင်ပါ။-ထိုလယ်ပြင်အဖိုးငွေကိုငါပေးမည်။
ငွေကိုယူပါ၊သို့ဖြစ်လျှင်၊ထိုအရပ်၌၊ငါ၏မယား
အသေကောင်ကိုငါသင်းဂြိုဟ်ပါမည်ဟု၊ပြည်
သားပရိသတ်တို့ရှေ့မှာ၊ ဧဖရုန်အား ပြောဆို
၁၄ ၏။- ဧဖရုန် ကလည်း၊ အကျွန်ုပ် သခင်၊ နား
၁၅ ထောင်ပါ။- ထိုမြေသည် ငွေလေးရာသောအဖိုး
ထိုက်ပါ၏။ ကိုယ်တော်နှင့်အကျွန်ုပ်၌ အဘယ်
အတွက်ရှိသနည်း။ ကိုယ်တော်၏မယားအသေ
ကောင်ကိုသင်းဂြိုဟ်ပါလော့ဟု၊အာဗြဟံအား
၁၆ ပြန်ပြော၏။-အာဗြဟံသည်ထိုဧဖရုန်စကား
ကိုနားထောင်သည်ဖြစ်၍၊ ကုန်သည်သုံးစွဲ
သောငွေမျိုး၊ ဟေသအမျိုးသားပရိသတ်ရှေ့
ဧဖရုန်အဖိုးဖြတ်သည့်အတိုင်း၊ ငွေလေးရာသော
၁၇ ကိုချိန်၍၊သူ့အားပေးလေ၏။- ထိုသို့ခံရေမြို့ရှေ့
မှာ၊ မက္ခပေလာ အရပ်၌ရှိသောဧဖရုန်၏လယ်ပြင်
ကိုရှင်း၊ လယ်ပြင်၌ရှိသောဂူကိုရှင်း၊ လယ်ပြင်
၁၈ တွင်ရှိသော သစ်ပင်များ၊ ပတ်ဝန်းကျင်သစ်ပင်များကိုရှင်း၊-ဟေသ
အမျိုးသား ပရိသတ်၌၊ မြို့တံခါးသို့ ဝင်သော
သူ အပေါင်းတို့ရှေ့မှာ၊ အာဗြဟံ၌ ပိုင်ထိုက်ဖို့
ခိုင်ခံ့လေ၏။

၁၉ ထိုနောက်မှ အာဗြဟံသည်၊ မံရေမြို့ ရှေ့မှာ၊
မခပေလ လယ်ပြင် မြေတွင်း၌၊ မယားစာရာကို
သင်္ဂြိုဟ်ရလေ၏၊ ထိုအရပ်ကား၊ ခါနာန်ပြည်
၂၀ ဟေဗြုန်အရပ်ဖြစ်သတည်း။- ထိုလယ်ပြင်နှင့်
မြေတွင်းကို၊ အာဗြဟံပိုင်ထိုက်သောသင်္ချိုင်း
ဖြစ်စေခြင်းငှါ၊ ဟေသအမျိုးသားတို့သည်လုံချုပ်
ခွာအပ်ပေးကြ၏။

၂၄

၁ အာဗြဟံသည်အိုနှစ်၊ အသက် အရွယ် ကြီး
ရင့်ဘူပြီ၊ ထာဝရဘုရားသည်၊ အရာရာ၌ထိုသူကို
၂ ကောင်းကြီးပေးတော်မူပြီ။- အာဗြဟံသည်၊ မိမိ
အိမ်သားတို့တွင်၊ အသက်ကြီး၍ တစ္ဆာခိုးထုပ်
၃ သောသူကို ခေါ်ပြီးလျှင်၊- သင်သည်၊ ငါနေသော
ခါနာန် အမျိုးတို့ တို့တွင်၊ ငါ့သားအို မယားကို
၄ မရွေးမယူဘဲ၊- ပြည်၊ ငါ့အမျိုးသားချင်းတို့ထံ
သို့သွား၍၊ ငါ့သားဣဇာက် အဖို့မယားကိုယူရ
မည်ဟု၊ သင်၏လက်ကိုငါ့ပေါင်အောက်၌ ထား
ပြီးမှ၊ ကောင်းကင်မြေကြီးအရှင်ဘုရားသခင်၊
ထာဝရဘုရားကိုတိုင်တည်၍၊ ငါကျိန်ဆိုစေပါ
၅ မည်ဟုဆို၏။- ကျွန်ကလည်း၊ မိန်းမသည်ဤပြည်
သို့မလိုက်မလာလိုလျှင်၊ ကိုယ်တော်ထွက်လာ
သောပြည်သို့ကိုယ်တော်၏သားကို တဖန်ကျွန်
တော်ခေါ်သွားရပါမည်လောဟုမေးလေသော်၊-
၆ အာဗြဟံက၊ ထိုပြည်သို့ငါ့သားကိုခေါ်၍ မသွား
၇ နှင့်၊ သတိပြုလော့။- ငါ့အဖ၏အိမ်မှ၎င်း၊ ငါ့အမျိုး
သားနေရာပြည်မှ၎င်းငါ့ကိုခေါ်၍၊ သင်၏အမျိုးအ
နွယ်အား ဤပြည်ကိုငါပေးမည်ဟု၊ ငါ့အား ဗျာ
ဒိတ်တော်ပေး၍ ကျိန်ဆို တော်မူသော ကောင်း
ကင်ဘုံရှင် ဘုရား၊ သခင် ထာဝရ ဘုရား၊ သည်၊
မိမိ ကောင်း ကင် တမန် ကို သင့်ရှေ့၌ စေ လွှတ်
တော် မူသဖြင့်၊ သင်သည်ထိုပြည်မှ ငါ့သားအို
၈ မယားကို ယူရထိမ့်မည်။- မိန်းမသည်သင်နှင့်အ
တူမလိုက်လိုလျှင်၊သင်သည်၊ ယခုငါပေးသော
ကျိန်ဆိုခြင်းနှင့် ကင်းလွတ်စေ၊ ငါ့သားကို ထို
၉ ပြည်သို့ခေါ်၍မသွားနှင့်ဟု ဆိုပြီးမှ၊- ကျွန်သည်
သခင်အာဗြဟံ၏ ပေါင်အောက်၌လက်ကိုထား
၍ ထိုအမှု၌ကျိန်ဆိုလေ၏။
၁၀ ထိုကျွန်သည်လည်း၊ မိမိသခင်၏ ဥစ္စာရှိသမျှ
ကိုစီရင်သောသူဖြစ်၍၊ သခင်၏ကုလားအုတ်ရှ
ထဲက၊ကုလားအုတ်ဆယ်စီးကိုယူ၍ထသွားသ
ဖြင့်၊ မေသော ပေါတာမိထိုင်း၊ နာခေါ်မြို့ သို့
၁၁ ရောက်လေ၏။- မြို့ပြင်ရေခပ်သောညဦးယံအ
ချိန်၌၊ မြို့ပြင်ရေတွင်းနားမှာကုလားအုတ်တို့ကို
၁၂ ဝပ်စေပြီးလျှင်၊- အကျွန်ုပ်၏သခင်၊ အာဗြဟံ၏
ဘုရားသခင်ထာဝရဘုရား၊ယနေ့ အကျွန်ုပ်အကြံ
ကိုထမြောက်စေ၍၊ အကျွန်ုပ်၏ သခင်အာဗြဟံ
၌ကျေးဇူးပြုတော်မူပါဟု၊ အကျွန်ုပ်ဆုတောင်းစ
၁၃ ပါ၏။- အကျွန်ုပ်သည်၊ဤရေတွင်းနားမှာရပ်နေ
၍၊ထိုမြို့သူသတို့သမီးတို့သည်၊ရေခပ်ခြင်းငှါလာ
၁၄ ကြသည်တွင်၊- အကြင် သတို့ သမီးကို၊ ကျွန်ုပ်
သောက်ခြင်းငှါ သင်၏ ရေ အိုး ကို ချပါ ဟု ဆို
သော်၊ သောက်ပါ၊ သင်၏ ကုလားအုတ် တို့ကို
လည်း၊ ရေတိုက်ပါမည်ဟု၊ ပြန်ဆိုသော သတို့
သမီးသည်၊ ကိုယ်တော်၏ ကျွန်ဣဇာက်အို ခန့်
ထားတော်မူသော သူ ဖြစ် ပါ စေသော၊ ထိုသို့
အားဖြင့်၊ အကျွန်ုပ်၏သခင်၌ ကျေးဇူးပြု တော်
မူကြောင်းကို၊အကျွန်ုပ်သိရပါမည်ဟု လျှောက်
ဆို၏။
၁၅ ထိုသို့လျှောက်ဆို၍မပြီးမှီ၊အာဗြဟံအစ်ကို
နာခေါ်မယားမိလစါသား၊ ဗေသွေလ၏သမီးရေ
ဗက္ကသည်၊ ရေအိုး ကို ထမ်း လျက် ထွက် လာ
၁၆ သည်ကိုမြင်၏။- ထို သတို့ သမီး သည်၊ အလွန်
အဆင်းလှ၍၊ ယောကျ်ားနှင့် မဆက်ဆံ သေး
သောကညာဖြစ်၏၊ ရေတွင်းသို့ဆင်း၍ ရေအိုး
၁၇ ကိုရေနှင့် ဖြည့်ပြီးမှ တက်လာ၏။- ကျွန်သည်
လည်း၊ ထိုမိန်းမနှင့်တွေ့ခြင်းငှါပြေး၍၊ သင်၏ရေ
အိုး၌ရေအနည်းငယ်ကို သောက်ပါရစေဟု ဆို
၁၈ သော်၊- မိန်းမက၊ သောက်ပါတော့ အရှင်ဟု
ဆိုသဖြင့်၊ မိမိလက်ပေါ်မှာ၊ အလျင်အမြန်ရေ
၁၉ အိုးကိုချ၍၊ ရေကို ပေးလေ၏။- ရေကို ပေးပြီး
လျှင်၊သင်၏ကုလားအုတ်တို့သည်လည်း ဝစွာ
သောက်စေရာတို့၊ ရေခပ်ပါမည်ဟု ဆိုသည်အ
၂၀ တိုင်း။- အလျင်အမြန်အိုး၌ ရှိသောရေကို၊ ရေ
တိုက် ခွက်ထဲ၌သွန်းပြီးလျှင်၊ တဖန်ခပ်ခြင်း
ငှါရေတွင်းသို့ပြေး၍၊ ကုလားအုတ်အဖို့ရေခပ်
၂၁ ပေး၏။-ယောကျ်ားသည် ထိုမိန်းမကိုငေးကြည့်၍၊
မိမိရောက်လာသော အမှုကိုထာဝရ ဘုရားပြု
တော်မူသည်၊ မမူသည်ကိုသိလို၍၊ တိတ်ဆိတ်
၂၂ စွာနေလေ၏။-ကုလားအုတ်များကိုရေသောက်
စေပြီးသော နောက်၊ ယောကျ်ားသည်၊ အချိန်
ငါးမူးရှိသောရွှေနားကွင်း၊ အကျပ် တဆယ်အချိန်
၂၃ ရှိသောရွှေလက်ကောက် တရံကိုယူ ထိ၍-သင်
သည် အဘယ်သူ၏ သမီးဖြစ်သနည်း၊ ကျွန်ုပ်ကို
ပြောပါ။ သင်၏အဘအိမ်၌ ကျွန်ုပ်တို့တည်းခို

၂၄ ရာအရပ်ရှိသလောဟု မေးလေသော်၊— မိန်းမက၊
ကျွန်ုပ်သည် နာခေါ်၏ မယား မိလ္ကာ ဘွားမြင်
သော၊ ဗေသွေလ၏ သမီးဖြစ်သည် ဟူ၍ ၎င်း၊—
၂၅ ကျွန်ုပ်တို့၌မြက်ခြောက်များ၊ စားဘွယ်သောက်
ဘွယ်များနှင့်၊တည်းခိုစရာအရပ်လည်းရှိသည်
၂၆ ဟူ၍၎င်းဆိုလေ၏။— ထိုအခါထိုလူသည်
ဦးညွှတ်၍ ယေဟောဝါဘုရားကိုကိုးကွယ်လျက်၊—
၂၇ ကရုဏာ၊သစ္စာတော်ကိုအကျွန်ုပ် သခင်မှရုတ်
သိမ်းတော်မမူသော၊ အကျွန်ုပ်သခင် အာဗြဟံ
၏ ဘုရား သခင် ယေဟောဝါ ဘုရားသည် မင်္ဂလာရှိ
တော်မူစေ သတည်း။ ထမ်း မှာ သွား လျက် ရှိ
သောအကျွန်ုပ်ကိုယေဟောဝါဘုရားသည်အကျွန်ုပ်
သခင်၏ ညီအစ်ကိုတို့အိမ်သို့ ပို့ဆောင်တော်မူ
၂၈ ပါသည်တကားဟုမြွက်ဆို၏။—သတို့သမီးသည်
ထည်းပြေး၍အမိ၏အိမ်၌ဤအရာများကိုကြား
ပြောလေ၏။
၂၉ ရေဗက္ကာ၌ လာဗန် အမည်ရှိသော မောင်တ
ယောက်ရှိ၏၊ လာဗန်သည်ယောက်ျားရှိရာရေ
၃၀ တွင်းသို့ပြေး၏။—လူသည်နားဆွဲကိုင်၎င်း၊နှမလက်
၌ လက်ကောက် ကို၎င်း မြင်၍၊ ထိုယောက်ျား
သည်ကျွန်ုပ်ကိုဤသို့ပြောသည်ဟု၊နှမရေဗက္ကာ
ဆိုသောစကားကို ကြားသောအခါ၊ ရေတွင်းနား၌
ကုလားအုတ်အနားမှာ ရပ်နေသော ယောက်ျား
၃၁ ထံသို့ရောက်သောအခါ၊—ယေဟောဝါဘုရားကောင်း
ကြီး ပေးတော်မူသောသူ၊ ကျွန်ုပ်အိမ်သို့ ဝင်ပါ
လော့။ ပြင်၌ အဘယ်ကြောင့် ရပ်နေ သနည်း။
အိမ်ကို၎င်း၊ ကုလားအုတ်များ နေရာအရပ်ကို
၃၂ ၎င်း၊ကျွန်ုပ်ပြင်ပါပြီဟုဆိုသဖြင့်၊—ယောက်ျားကို
အိမ်သို့သွင်း၍ကုလားအုတ်တို့တန်ဆာကိုချွတ်
ပြီးမှ၊သူတို့အားမြက်ခြောက်နှင့်စားစရာကိုပေး
၏။ယောက်ျားခြေ၊ထိုက်သောသူတို့ခြေဆေးဖို့
၃၃ ရေကိုလည်းပေးလေ၏။— ထမင်းမှာ စားစရာကို
ထည့်သောအခါ၊သူက၊ကျွန်ုပ်သည် ကိုယ်အမှု
ကိုမပြောမှီမစားလိုပါဟုဆိုလျှင်၊ပြောပါဟုဆို
၃၄ ၏။—ယောက်ျားကလည်း၊ကျွန်ုပ်ကား အာဗြဟံ
၃၅ ၏ကျွန်ဖြစ်ပါ၏။— ယေဟောဝါဘုရားသည်ကျွန်ုပ်၏
သခင်ကိုအလွန်ကောင်းကြီး ပေးတော်မူသဖြင့်၊
သူသည်ကြီးမြတ်ခြင်းသို့ရောက်လေပြီ၊ သိုး၊နွား၊
ငွေ၊ရွှေ၊ ကျွန်ယောက်ျား၊ ကျွန်မိန်းမ၊ ကုလား
၃၆ အုတ်နှင့်မြည်းများတို့ကိုပေးတော်မူပြီ။— ကျွန်ုပ်သ
ခင်၏မယားစာရာသည်၊ အသက်အိုသော
အခါ၊ ထိုမယားသားကိုဘွားမြင်သဖြင့်၊ ထိုသား
အားဥစ္စာ ရှိသမျှကို အပိုင်အပြီ အပ်ပေးပြီ။—
၃၇ ကျွန်ုပ်၏သခင်ကလည်း၊ သင်သည် ငါနေသော
ခါနာန် အမျိုးသို့တို့တွင်၊ ငါ့သားဖို့ မယားကို
၃၈ မရှာဘဲ၊— ငါ့အဘ၏အိမ်၊ ငါ့အမျိုးသားချင်းတို့
ထံသို့သွား၍၊ ငါ့သားဖို့၊ မယားကိုယူရမည်ဟု
၃၉ အကျွန်ုပ်ကိုကျိန်ဆိုစေ၏။— အကျွန်ုပ်ကလည်း၊
မိန်းမသည် မလိုက်လိုလျှင် အဘယ်သို့ နည်းဟု
၄၀ သခင်ကိုမေးလေသော်၊— သခင်က၊ အကြင်ယေဟော
ဝါဘုရားသခင်ရှေ့တော်၌ငါသွားသော၊ ထိုဘု
ရားသည်မိမိကောင်းကင်တမန်ကိုသင်နှင့်အတူ
စေလွှတ်၍၊ သင်သွားသောအမှုကိုပြုတော်မူ
သဖြင့်၊ ငါ့အမျိုးသားချင်း၊ ငါ့အဘ၏အိမ်ထဲက
၄၁ ငါ့သားဖို့ မယားကို ယူရမည်။— ငါ့အမျိုးသား
ချင်းတို့ထံသို့ရောက်သောအခါ၊ သင်သည်ငါပေး
သောကျိန် ဆိုခြင်းနှင့် ကင်းလွတ်စေ၊ ထိုသူတို့
သည်မိန်းမကိုမပေးသော်လည်း၊သင်သည်ငါပေး
သော ကျိန်ဆို ခြင်းနှင့် ကင်းလွတ် စေမည်ဟု
၄၂ ပြော၏။— ကျွန်ုပ်သည်ယနေ့ရေတွင်းသို့ရောက်
ပြီးလျှင်၊ ကျွန်ုပ်သခင် အာဗြဟံ၏ ဘုရားသခင်
ယေဟောဝါဘုရား၊ အကျွန်ုပ် ရောက်လာသောအမှု
၄၃ ကို အစီ ပြုတော်မူလျှင်၊— အကျွန်ုပ်သည် ရေ
တွင်းနားမှာရပ်နေ၍၊ရေခပ်ခြင်းငှါလာသောအ
ပြင်သို့၊ကညာကို၊ ကျွန်ုပ်သောက်ဘို့သင်၏ရေ
အိုး၌ ရေ အနည်း ငယ်ကို ပေး ပါ ဟု တောင်း
၄၄ သော်၊— သောက်ပါ၊သင်၏ ကုလားအုတ်တို့အို့
လည်းရေခပ်ပါမည်ဟု၊ပြန်ဆိုသောထိုးကညာ
သည်၊ကိုယ်တော်ကျွန်၏သားအို့၊ခန့်ထားတော်
မူသော မိန်းမဖြစ်ပါစေသောဟု လျှောက်ဆို၏။—
၄၅ ထိုသို့စိတ်နှလုံး၌လျှောက်ဆို၍မပြီးမှီ၊ရေဗက္ကာ
သည်ရေအိုးကို ထမ်းလျက် ထွက်လာ သဖြင့်၊
ရေတွင်းသို့ ဆင်း၍ ရေခပ်သည်ကို ကျွန်ုပ် မြင်
လျှင်၊ရေသောက်ပါရစေဟု၊ သူကိုတောင်းလေ
၄၆ သော်၊— သူသည်အလျင်အမြန် ပခုံးပေါ်က ရေ
အိုးကိုချလျက်၊သောက်ပါလော့၊သင်၏ကုလား
အုတ်တို့ကိုလည်း၊ ရေတိုက်ပါမည်ဟုဆိုသည်
အတိုင်း၊ ကျွန်ုပ်သောက်ရ၏၊ ကုလားအုတ်တို့
၄၇ ကိုလည်း၊ ရေတိုက် လေ၏။— ကျွန်ုပ်ကလည်း၊
သင်သည် အဘယ်သူ၏သို့၊ဖြစ်သနည်းဟု မေး
သော်၊ သူက၊ ကျွန်ုပ်သည်မိလ္ကာ ဘွားမြင်သော
နာခေါ်သားဗေသွေလ၏သမီး ဖြစ်သည်ဟု ပြော
ဆို၏။ ကျွန်ုပ်သည်လည်း၊သူ၏ရုက်နှာ၌နားဆွဲ
ကိုင်၎င်း၊သူ၏လက်၌လက်ကောက်တို့ကိုင်၎င်းဆင်

၄၈ ဖြစ်လျှင်၊- ဦးညွှတ်၍၊ ကျွန်ုပ်သခင်အစ်ကို၏
မြေးကိုသခင်၏သားအိုယူစေခြင်းငှါ၊ မှန်သော
ထမ်း ခြင်း ပို့ဆောင်တော် မူသော၊ ကျွန်ုပ်သ
ခင် အာဗြဟံ၏ ဘုရားသခင် ထာဝရဘုရားကို
၄၉ ကောင်းကြီးပေး၍ ကိုးကွယ်လေ၏။- ယခုတွင်
သင်တို့သည်၊ ကျွန်ုပ်သခင်၌သစ္စာနှင့် ကျေးဇူး
ပြုမည်၊ မပြုမည်ကိုပြောပါ။ ကျွန်ုပ်သည်ထစ်၊
ထက်ျာထမ်း ဖြစ်စေ၊ ထက်ဝဲ ယမ်း ဖြစ်စေ၊ ထ
ထမ်းထမ်းသို့လိုက်သွားပါမည်ဟုပြောဆို၏။
၅၀ လာဗန်နှင့် ဗေသွေလ တို့ကလည်း၊ ဤအမှု
သည်ထာဝရဘုရား စီရင်တော်မူသော အမှုဖြစ်
၏။ အကျွန်ုပ်တို့သည်၊ သင့်အားကောင်းမကောင်း
၅၁ ဆိုမပြောနိုင်ပါ။- ရေဗက္ကသည် သင့်ရှေ့၌ရှိပါ
၏၊ ယူသွားပါလော့။ ထာဝရဘုရား မိန့်တော်မူ
သည်အတိုင်း၊ သင်၏ သခင်သား၏ မယားဖြစ်
၅၂ စေဟုပြန်ဆို၏။- ထိုစကားကိုကြားလျှင်၊ အာဗြ
ဟံကျွန်သည်ဦးညွှတ်ချ၍၊ ထာဝရဘုရားကိုကိုး
၅၃ ကွယ်ပြီးမှ၊- ငွေဖလား၊ ရွှေဖလား၊ အဝတ်တန်
ဆာများကို ထုတ်၍ ရေဗက္ကအားပေး၏၊ သူ၏
အမိမောင်အားလည်း၊ အဖိုးထိုက်သောလက်
၅၄ ဆောင်ကိုပေး၏။- သူနှင့်သူ၏ အပေါင်းအပေါင်း
ထိုသည်၊ စားသောက်၍ညဉ့်ကိုလွန်စေပြီးမှ၊
နံနက်ယံ၌ထလျှက်၊ ကျွန်ုပ်သည်၊ သခင်ထံသို့
၅၅ ပြန်ပါရစေဟုဆိုလေသော်၊- မောင်နှင့်အမိက၊
မိန္မ ကလေးသည်၊ ကျွန်ုပ်တို့ ထံမှာ၊ ဆယ်ရက်
ခန့် ထောက်နေပါစေဦး၊ နောက်မှ၊ သူကိုသွား
၅၆ ပါစေမည်ဟုဆိုကြ၏။- ထိုသူကလည်း၊ ကျွန်ုပ်
ကိုမဆီးတားပါနှင့်။ ထာဝရဘုရားသည်၊ ကျွန်ုပ်
ရောက်လာသောအမှုကိုပြုစုတော်မူပြီ၊ ကျွန်ုပ်
သည်သခင်ထံသို့ သွားရသောအခွင့်ကို ပေးပါ
၅၇ လော့ဟုဆိုလျှင်၊- သူတို့က၊ မိန္မကလေးကိုခေါ်
၍၊ သူ့အလိုကိုမေးပါဦးမည်ဟုဆိုသည်နှင့်၊-
၅၈ ရေဗက္ကကိုခေါ်၍၊ သင်သည်ဤလူနှင့်အတူယခု
လိုက်မည်လောဟုမေးသောအခါ၊ ကျွန်ုပ်လိုက်
၅၉ ပါမည်ဟုဆို၏။- သို့ဖြစ်၍၊ မိမိနှမရေဗက္ကနှင့်
သူ၏အထိန်းကိုင်၊ အာဗြဟံကျွန်နှင့်သူ၏လူတို့
၆၀ ကိုလွှတ်လိုက်ကြ၏။-ရေဗက္ကကိုလည်း၊ သင်
သည်ကျွန်ုပ်တို့၏နှမဖြစ်၏၊ အထောင်းအသိန်း
တို့၏အမိဖြစ်ပါစေသော၊ သင်၏အမျိုးအနွယ်
သည် ရန်သူတို့၏တံခါး များကို အစိုးရ ပါစေ
၆၁ သောဟုကောင်းကြီးပေးကြ၏။-ရေဗက္ကနှင့်သူ
၏ မိန္မငယ် တို့သည်ထ၍၊ ကုလားအုတ်ကို စီး
လျှက်၊ ထိုယောက်ျားနှင့်အတူလိုက်ကြ၏။ ထိုသို့
အာဗြဟံကျွန်သည် ရေဗက္ကကိုဆောင်ယူသွား
လေ၏။
၆၂ ထိုအခါ တောင်ပြည် အတွင်း၌ နေသော ဣ
ဇာက်သည်၊ ဗေရလဟဲရော ထမ်းမြင်း ရောက်
၆၃ လာသည် ဖြစ်၍၊- ညဦး အချိန်၌ ဆင်ခြင်လို
သောငှါ၊ တော အရပ်သို့ ထွက် သွား ၍၊ မျှော်
ကြည့်လျှင်၊ ကုလားအုတ်များလာသည်ကိုမြင်
၆၄ လေ၏။- ရေဗက္က သည် လည်း၊ မျှော် ကြည့်၍
ဣဇာက်ကိုမြင်သောအခါ၊ ကုလားအုတ်အပေါ်
၆၅ မှဆင်းပြီးလျှင်၊- ကျွန်ုပ်တို့ကို ကြိုဆိုခြင်းငှါ၊
တော၌လာသော ထိုသူကား၊ အဘယ်သူနည်း
ဟု၊ ကျွန်ကိုမေးလေသော်၊ ကျွန်က၊ ထိုသူသည်
ကျွန်ုပ်သခင်ဖြစ်ပါ၏ဟု၊ ပြောဆိုသော စကား
ကိုကြားလျှင်၊ ရေဗက္ကသည်မျက်နှာဖုံးကိုယူ၍
၆၆ ဖုံးလေ၏။- ကျွန်သည်လည်း၊ မိမိပြုသောမှုတို့
၆၇ ကို ဣဇာက်အား ကြား ပြော ပြီးမှ၊- ဣဇာက်
သည် မိမိအမိစာရာ၏တဲသို့ ရေဗက္ကကို ဆောင်
ယူ၍မိဖက်လေ၏၊ ရေဗက္ကကို ချစ်နှစ်သက်သဖြင့်၊
အမိသေသောအမှု၌ သက်သာခြင်းသို့ ရောက်
လေ၏။

## ၂၅

၁ တဖန် အာဗြဟံသည်၊ ကေတုရအမည်ရှိသော
၂ မိန်းမနှင့်စုံဖက်၍၊- ထိုမိန်းမသည်ဇိမရံ၊ ယုတ်ရှန်၊
မေဒန်၊ မိဒျန်၊ ဣရှဗက်၊ ရှုအာတို့ကို ဖွားမြင်လေ
၏။-ယုတ်ရှန်သားကား၊ ရှေဘနှင့်ဒေဒန်တည်း။
ဒေဒန် သားကား၊ အာရှုရိမ်လူ၊ လေတုရှိမ်လူ၊
လုမ်မိမ်လူတည်း။- မိဒျန်သားကား၊ ဧဖာ၊ ဧဖေ
ရ၊ ဟာနုတ်၊ အဘိဒ၊ ဧလဒါတည်း။ ထိုသူအ
ပေါင်းတို့ကားကေတုရအနွယ်ဖြစ်ကြသတည်း။
၅ အာဗြဟံသည်၊ မိမိ ဥစ္စာရှိသမျှကို ဣဇာက်
၆ အားပေးလေ၏။- မယားငယ်တို့၌ရသောသား
တို့အားလည်း၊ မိမိအသက်ရှင်စဉ်တွင်ဆုလပ်
များကိုဝေပေး၍၊ သားဣဇာက်ထံမှ အရှေ့ပြည်
သို့လွှတ်လိုက်လေ၏။
၇ ထိုနောက်အာဗြဟံသည်အသက်ကြီးရင့်၍၊
ထိုမင်းခြင်း၊ နေ့ရက်ကာလ ပြည့်စုံခြင်းနှင့် လ
ကွ၊ အသက် ပေါင်း တရာ ခုနစ်ဆယ် ငါးနှစ်ရှိ
၈ သော်၊- အသက်ချုပ်၍အနိစ္စဖြစ်သဖြင့်၊ မိမိလူ
၉ မျိုးစည်းဝေးရာသို့ရောက်လေ၏။-သားဣဇာက်
နှင့် ဣရှမေလတို့သည်၊ မံရေမြို့ရှေ့မှာ၊ ဟိတ္တိအ
မျိုးသား၊ ဇောရသား ဧဖရုန်၏ လယ်မြင် တွင်၊

၁၀ မပွေလမြေတွင်း၌အဗြဟံကိုသင်းဂြိုဟ်ကြ၏။-ဟေ
သ အမျိုးသား တို့အား အဖိုးပေး၍ အာဗြဟံ
ဝယ်သောလယ်ပြင်၌၊အာဗြဟံနှင့်မယားစာရ
တို့ကိုသင်းဂြိုဟ်ကြသတည်း။
၁၁ အာဗြဟံသေသောနောက်၊ သားဣဇာက်ကို
ဘုရားသခင်ကောင်းကြီးပေးတော်မူ၏၊ဣဇာက်
၁၂ သည်ဗေရလဟဲရောဣမြို့မှာနေသတည်း။- စာရာ
၏ ကျွန်မ၊ အဲဂုတ္တု အမျိုးသား ဟာဂရဖွားမြင်
သော အာဗြဟံသားဣရှမေလ၏ သားစဉ်မြေး
၁၃ ဆက်တည်း ဟူသော၊- မိမိအမျိုး အနွယ် အ
လိုက်၊ ဣရှမေလ သားများအမည် ဟူမူကား၊
သားအကြီးနဗာယုတ်၊ ထိုနောက်ကေဒါ၊ အဒ
၁၄၊၁၅ ဗေလ၊မိဗသံ၊- မိရှမ၊ဒုမာ၊မာဇ၊-ဟာဒဒ်၊
တေမ၊ ယေတုရ၊ နာဖိရှ၊ ကေဒမာ တည်း ဟူ
၁၆ သော၊- ဣရှမေလသားတည်း။ ထိုသို့အမည်ရှိ
သောသူတို့သည်၊ မိမိမြို့၊ မိမိရဲတိုက်အလိုက်၊
အမျိုးမျိုးသောမင်းဆယ်နှစ်ပါး ဖြစ်သတည်း။-
၁၇ ဣရှမေလသည်အသက်တရာသုံးဆယ်ခုနှစ်နှစ်
ရှိသော်၊ အသက်ချုပ်၍ သေသဖြင့်၊ မိမိလူမျိုး
၁၈ စည်းဝေးရာသို့ ရောက် သေ၏။- သူတို့ သည်
လည်း၊အာရှုရိပြည်သို့သွားရာလမ်း၊ ဟဝိလမြို့
မှစ၍၊အဲဂုတ္တုပြည်အရှေ့၊ရှုရမြို့တိုင်အောင်နေ
ကြ၏၊ထိုဘို့ဣရှမေလ၏နေရာသည်၊မိမိညီအစ်
ကိုအပေါင်းအနားး၌ကျသတည်း။
၁၉ အာဗြဟံသား ဣဇာက်၏ အဆက် အနွယ်
ဟူမူကား၊အာဗြဟံသားကားဣဇာက်တည်း။-
၂၀ ဣဇာက်သည်၊အသက်လေးဆယ်ရှိသောအခါ၊
ပါဒနာရံ အရပ်သူ၊ ရှုရိအမျိုးဗေသွေလ၏သမီး၊
ရှုရိလူ လာဗန်၏နှမ ရေဗက္ကာနှင့် အိမ်ထောင်
၂၁ လေ၏။- ဣဇာက်သည်၊ မိမိမယားရေဗက္ကာမြုံ
သောကြောင့်၊ ထာဝရဘုရားကို တောင်းပန်၍၊
ထာဝရဘုရား နားထောင် တော်မူသဖြင့်၊ သူ၏
၂၂ မယားသည် ပဋိသန္ဓေ စွဲယူ လေ၏။- ဝမ်းအ
တွင်း၌တည်သောသူငယ်တို့သည်၊ အချင်းချင်း
တိုက်ခိုက်ကြ၏၊ အမိကလည်း၊ထိုသို့ဖြစ်၍ငါ
၌အဘယ်အမှု ရောက်ပါလိမ့် မည်နည်းဟုဆို
သဖြင့်၊ ထာဝရဘုရားကို မေးလျှောက် ခြင်းငှါ
၂၃ သွားလေ၏။- ထာဝရ ဘုရား ကလည်း၊ သင်၏
ဝမ်းအတွင်း၌လူမျိုးနှစ်မျိုးရှိ၏၊ သင်၏ဝမ်းထဲ
ကခြားနားသော လူစုနှစ်စုကို ဖွားရလိမ့်မည်၊
လူတမျိုးသည်တမျိုးထက် အားကြီးလိမ့်မည်၊
အကြီးသည် အငယ်၌ ကျွန်ခံရလိမ့်မည်ဟုမိန့်
၂၄ တော်မူ၏။- ဖွားမြိန်စေ့သောအခါ၊ သူ၏ဝမ်း၌
၂၅ သားအမွှာရှိသဖြင့်၊-အဦးဖွားသောသားသည်၊
အမွေးပါသော အဝတ်ကဲ့သို့ ဖြစ်၍၊ တကိုယ်
လုံးအဆင်းနီ၏၊ သူကိုဧသောဟူသော အမည်
၂၆ ဖြင့်မှည့်ကြ၏။- ထိုနောက်မှသူညီသည်၊အစ်ကို
ဧသော၏ဖနောင့်ကိုကိုင်လျက်ဖွားလာ၏၊သူကို
ကား၊ ယာကုပ်အမည်ဖြင့်မှည့်ကြ၏၊ ထိုသား
နှစ်ယောက်ကို ဖွားသောအခါ၊ ဣဇာက်သည်
၂၇ အသက်ခြောက်ဆယ်ရှိသတည်း။- သူငယ်တို့
သည်ကြီးပွား၍၊ဧသောကားလိမ္မာသောတော
သား မုဆိုး ဖြစ်လေ၏၊ ယာကုပ်ကား၊ ထဲ၌နေ
၂၈ တတ်၍မိတ်ကောင်းသောသူဖြစ်၏။- ဣဇာက်
သည်၊ ဧသောပေးသောအမဲသားကိုစားရတွေ့ရှိ
သောကြောင့် သူကိုချစ်၏၊ ရေဗက္ကာမူကား ယာ
ကုပ်ကိုချစ်၏။
၂၉ တနေ့သ၌၊ ယာကုပ်သည် စားစရာကို ချက်
ပြုတ်စဉ်တွင်၊ ဧသောသည် တောမှလာ၍မော
၃၀ သောကြောင့်၊- ယာကုပ်အား၊ ထိုနီသောစားစ
ရာနှင့်ငါ့ကိုကျွေးပါလော့၊ငါမောပါသည်ဟုဆို
လေ၏၊ ထိုကြောင့်သူ၏နာမည်ကိုဧဒုံဟု တွင်သ
၃၁ တည်း။- ယာကုပ်ကလည်း၊ ယနေ့ပင် သင်၏
သားဦးအရာကို၊ ငါ့အားရောင်းပါဟု ဆိုလျှင်၊-
၃၂ ဧသောက၊ငါသေလုပြီ၊ သားဦးအရာအားဖြင့်
အဘယ်အကျိုး ရှိပါလိမ့်မည်နည်းဟု ဆို၏။-
၃၃ ယာကုပ်ကလည်း၊ယနေ့ပင်ငါ့အားကျိန်ဆိုခြင်း
ကို ပြုပါဟု ဆိုသော်၊ သူသည်ကျိန်ဆို သဖြင့်၊
ယာကုပ်အား မိမိသားဦး အရာကို ရောင်းလေ
၃၄ ၏။- ထိုအခါယာကုပ်သည်၊ မုန့်နှင့်ပဲဟင်းကို
ဧသောအား ပေးသဖြင့်၊ သူသည် စားသောက်
ပြီးမှထ၍ သွားသော်၏၊ ထိုသို့ဧသောသည်၊ မိမိ
နှင့်ဆိုင်သော သားဦး အရာကို မထီမဲ့မြင် ပြုသ
တည်း။

၂၆

၁ အာဗြဟံလက်ထက်ထိုပြည်၌ ဖြစ်ဘူးသော
အစာ ခေါင်းပါးခြင်းမှတပါး၊ နောက်တဖန်အ
စာခေါင်း ပါးခြင်း ရှိပြန်သည်ဖြစ်၍၊ ဣဇာက်
သည်ဖိလိတ္တိ မင်းကြီးအဘိမလက် နေရာဂေရာ
၂ မြို့သို့သွားလေ၏။- ထာဝရဘုရားသည်ထင်းသု
အား ထင်ရှား၍၊ သင် သည် အဲဂုတ္တု ပြည် သို့
မသွားနှင့်၊ငါပြောထတ့်သောပြည်၌နေလော့။-
၃ ယခုဤပြည်၌ တည်းခို၍ နေလော့၊ သင့်ဘက်
မှာ ငါနေ၍ ကောင်းကြီးပေးမည်၊ အကြောင်း

ဖူးထား၊ သင်နှင့်သင်၏ အမျိုး အနွယ်အား ဤ
ပြည်ရှိသမျှတို့ကိုငါပေးမည်။ သင်၏အဘ အာဗြ
ဟံအားငါကျိန်ဆိုသောစကား ရှိသည်အတိုင်း၊
၄ ငါပြုမည်။- သင်၏အမျိုး အနွယ်ကို ကောင်း
ကင်ကြယ်ကဲ့သို့များပြားစေမည်။ သင်၏အမျိုး
အနွယ် အားလည်း၊ ဤပြည်ရှိသမျှ တို့ကိုငါ
ပေးမည်။ သင်၏အမျိုးအနွယ်အားဖြင့်လည်း
လူမျိုးအပေါင်းတို့သည်ကောင်းကြီးမင်္ဂလာကို
၅ ခံရကြလိမ့်မည်။-အကြောင်းမူကား၊ အာဗြဟံ
သည်ငါ့စကားကိုနားထောင်၍၊ ငါ၏ရင်မှာထား
သော ပညတ်တရား အမျိုးမျိုး တို့ ကို စောင့်
ရှောက်သတည်းဟုမိန့်တော်မူ၏။
၆၊၇ ဣဇာက်သည်ဂေရာမြို့၌နေစဉ်တွင်၊-မြို့သား
တို့သည်သူ၏မယားအကြောင်းကိုမေးသောအ
ခါ၊ ရေဗက္ကသည် လှသော အဆင်းအရောင်ရှိ
သောကြောင့်၊ဤပြည်သားယောကျ်ားတို့သည်
သူ့အကြောင်းကြောင့် ငါ့ကိုသတ်မည်ဟုမိုးရိမ်
၍၊ သူသည်ငါ့မယားဖြစ်သည်ဟုမပြောမဆိုဝံ့၊
၈ နှမဖြစ်သည်ဟုပြောဆို၏။- ထိုမြို့၌ကာလ
အင်တန်ကြာနေပြီးမှ၊တနေ့သ၌၊ဣဇာက်သည်
မိမိမယား ရေဗက္ကနှင့် ကစားသည်ကို၊ ဖိလိတ္တိ
မင်းကြီးအဘိမလက်သည် ပြတင်းပေါက်ဝက
၉ ကြည့်မြင်လျှင်၊- ဣဇာက် ကို ခေါ်၍၊ ထိုမိန်း
သည်၊အကယ်စင်စစ်သင်၏မယားဖြစ်၏။သို့ရာ
တွင်၊သူသည်ငါ့နှမဖြစ်၏ဟု၊ အဘယ်ကြောင့်
သင် ပြောရသနည်းဟုမေးသော်၊ ဣဇာက်က၊
သူ့အတွက်ကြောင့်ကျွန်ုပ်သေမည်ကိုမိုးရိမ်ပါ
၁၀ သည်ဟုလျှောက်ဆို၏။- အဘိမလက်မင်းက
လည်း၊ ငါတို့၌သင်ပြုသောအမှုကား၊ အဘယ်
သို့နည်း။တစုံတယောက်သောသူသည်သင်၏မ
ယားနှင့်အမှတ်တမဲ့ဆင့်နေလျှင်၊ ငါတို့ခေါင်း
ပေါ်မှာသင်သည်အပြစ်ရောက်စေလိမ့်မည်တ
၁၁ ကားဟုဆိုပြီးမှ၊- ဤသူလင်မယားကိုပြစ်မှား
သောသူသည်ဆက်ဆက်အသေခံရမည်ဟု၊မိမိ
လူအပေါင်းတို့ကိုမှာထားသတည်း။
၁၂ ထိုပြည်၌ ဣဇာက်သည်မျိုးစေ့ကြဲ၍၊ တ
နှစ်ချင်းတွင် အဆတရာသော အသီးအနှံကို ရ
လေ၏။ထာဝရဘုရားသည်လည်း၊ကောင်းကြီး
၁၃ ပေးတော်မူသဖြင့်၊- သူသည်ကြီးပွား၍၊ အ
လွန် စည်းစိမ် ကြီးသည်တိုင်အောင် ထိုးတက်
၁၄ လျက်၊ ကြီးပွားဥစ္စာများပြားစွာဖြစ်လေ၏။-သိုး
စု၊ နွားစုများ၊ ကျွန်များနှင့် ပြည့်စုံကြွယ်ဝ၏။

ထို့ကြောင့်၊ ဖိလိတ္တိလူတို့သည်သူ့ကိုငြူစူကြ၏။-
၁၅ အဘအာဗြဟံလက်ထက်၌၊ အဘ၏ကျွန်တို့တူး
သောရေတွင်းရှိသမျှတို့ကိုမြေနှင့်ဖို့ပိတ်ကြ၏။-
၁၆ အဘိမလက် မင်းကလည်း။ သင်သည် ငါတို့
ထက်တန်ခိုးကြီး၏။ငါတို့ထံမှထွက်သွားလော့
၁၇ ဟု၊ ဣဇာက်ကို အမိန့်ရှိသော ကြောင့်၊- ဣ
ဇာက်သည် ထိုမြို့မှထွက်သွားပြီးလျှင်၊ ဂေရာ
မြိုင်၌တဲကိုဆောက်၍နေလေ၏။
၁၈ ထိုအခါ ဣဇာက်သည်၊ အဘ အာဗြဟံကျွန်
တို့တူး၍၊ အဘသေသောနောက်၊ဖိလိတ္တိလူတို့ပို
သောရေတွင်းတို့ကိုတူးဖော်ပြန်၍၊အထက်က
အဘ သမုတ်သော အမည်ဖြင့် သမုတ် လေ၏။-
၁၉ ဣဇာက်ကျွန်တို့သည်၊မြိုင်ထဲ၌တူး၍စမ်းရေ
၂၀ တွင်းကို တွေ့ကြ၏။- ဂေရာ အမျိုး သား နွား
ကျောင်းတို့ကလည်း။ ဤရေသည်ငါတို့ရေဖြစ်၏
ဟု၊ ဣဇာက်၏နွားကျောင်းတို့နှင့်လုရက်ပြော
ဆိုကြ၏။ ထိုသို့ အချင်းချင်း လုရက် ကြ သော
ကြောင့်၊ ထိုရေတွင်းကို ဧသက်အမည်ဖြင့်မှည့်
၂၁ လေ၏။- နောက်တဖန်အခြားသောရေတွင်းကို
တူးပြန်ကြ၏။ထိုရေတွင်းကိုလည်းတဖန်လုကြ
သောကြောင့်၊ သိတနအမည်ဖြင့်မှည့်လေ၏။-
၂၂ ထိုအရပ်မှ နေရာ ပြောင်း၍၊ အခြားသော ရေ
တွင်းကိုတူးကြ၏။ ထိုရေတွင်းကိုအဘယ်သူမျှ
မလုရက် သောကြောင့်၊ ငါတို့နေစရာအခွင့်ကို
ယခုထာဝရဘုရားပေးတော်မူပြီဖြစ်၍၊ဤပြည်
၌ငါတို့သည် ကြီးပွား များပြား လိမ့်မည်ဟု ဆို
လျက်၊ ထိုရေတွင်းကိုရဟောဘုတ်အမည်ဖြင့်
မှည့်သတည်း။
၂၃ တဖန်ထိုအရပ်မှဗေရရှေဘအရပ်သို့ပြောင်း
၂၄ လေ၏။- ထိုနေ့ညမှာ ထာဝရဘုရားထင်ရှား
၍၊ ငါသည် သင်၏အဘအာဗြဟံ၏ ဘုရား
ဖြစ်၏။ မစိုးရိမ်နှင့်။ ငါသည်သင့်ထက်မှာရှိ၏။
ငါသည်ကောင်းကြီးပေးမည်။ ငါ၏ကျွန်အာဗြ
ဟံအတွက်၊သင်၏အမျိုးအနွယ်ကိုငါများပြား
၂၅ စေမည်ဟုမိန့်တော်မူ၏။-ထိုအရပ်၌ယဇ်ပလ္လင်
ကိုတည်၍၊ ထာဝရဘုရား၏နာမတော်ကိုပဌနာ
ပြု၏။ တဲကိုလည်း တည်ဆောက်၍၊ ကျွန်တို့
သည်ရေတွင်းကိုတူးကြ၏။
၂၆ ထိုအခါ အဘိမလက်မင်းသည်၊ အဆွေတော်
အဟုဇတ်နှင့်ဗိုလ်ချုပ်မင်းဖိကောလတို့ကိုခေါ်
၂၇ ၍၊ ဂေရာမြို့မှဣဇာက်ရှိရာသို့သွား၏။-ဣဇာက်
ကလည်း၊ သင်တို့သည်ငါ့ကိုမြင်ပျင်း၍နှင်ထုတ်

ပြီးမှ၊ အဘယ်ကြောင့် ငါ့ထံသို့လာကြသနည်းဟု မေး
၂၈ လျှင်၊- ထိုသူတို့က၊ ထာဝရဘုရားသည် သင့်
၌ရှိတော်မူကြောင်းကို၊ ငါတို့အမှန်သိ
၂၉ မြင်သည်ဖြစ်၍၊-ငါတို့သည်သင့်ကိုမထိမခိုက်၊
ကျေးဇူးကိုသာ ပြု၍၊ ငြိမ်ဝပ်စွာ လွှတ်လိုက်
သည်နည်းတူ၊ သင်သည်ငါတို့ကို အပြစ်မပြုရ
ဟု၊ ငါတို့တဘက်၊ သင့်တဘက်၊ နှစ်ဘက်သားတို့
သည်၊ သစ္စာဂတိထား၍ မိဿဟာယဖွဲ့ကြစို့၊
သင်သည်ထာဝရဘုရား ကောင်းကြီးပေးတော်
၃၀ မူသောသူ ဖြစ်ပါ၏ဟု ဆိုကြ လေသော်၊- ဣ
ဇာက်သည်၊ သူတို့အဖို့ စားသောက်ပွဲကိုလုပ်
၃၁ ၍၊ အတူစားသောက်ကြ၏။-နံနက်စောစောထ
၍၊ အချင်းချင်းတဦးနှင့်တဦးသစ္စာ ပြုကြ ပြီးမှ၊
ဣဇာက်သည် သူတို့ကို လွှတ် လိုက် ၍၊ သူတို့
၃၂ သည် ငြိမ် ဝပ်စွာ သွားရ ကြ၏။- ထိုနေ့၌ပင်၊
ဣဇာက်ကျွန်တို့သည်လာ၍၊ မိမိတို့ တူးသော
တွင်း၌ ရေတွေ့ ကြောင်းကို ပြောဆိုကြလျှင်၊-
၃၃ ထိုရေတွင်းကိုရှေဗ အမည်မြင့်မှည့်လေ၏။ထို
ကြောင့်ထိုအရပ်၌တည်သောမြို့ကို ဗေရရှေဗ
မြို့ဟု၊ ယနေ့တိုင်အောင်တွင်လေသတည်း။
၃၄ ဧသောသည် အသက်လေးဆယ် ရှိသောအ
ခါ၊ ဟိတ္တိအမျိုးသားဗေရိ၏သမီးယုဒိတ်၊ ဟိတ္တိ
အမျိုးသား ဧလုန်၏သမီးဗာရှမတ်တို့ နှင့် ထိမ်း
၃၅ မြားလေ၏။- ထိုမိန်းမတို့သည် ဣဇာက် နှင့်
ရေဗက္က၌စိတ်နှစ်ထုံးပူပန်စရာ အကြောင်းဖြစ်
သတည်း။

## ၂၇

၁ ထိုနောက်၊ ဣဇာက်သည်အို၍မျက်စိမှုန်သ
ဖြင့်၊ မမြင်နိုင်သောအခါ၊ သားအကြီး ဧသော
ကို၊သားဟုခေါ်လျှင်၊ အကျွန်ုပ်ရှိပါ၏ဟုထူး
၂ လေ၏။-အဖကလည်း၊ ယခုငါအိုလှပြီ၊အဘယ်
၃ သောအခါ သေရမည်ကို ငါမသိ။- မသေမှီ
ငါ့ဝိညာဉ်သည်၊သင့်ကိုကောင်းကြီးပေးမည်အ
ကြောင်း၊ သင်၏လက်နက်တည်းဟူသော လေး
နှင့်မြား တောင့်ကို ဆောင် ၍ လွင်ပြင် တောသို့
သွား၍၊ ငါစားစရာဖို့ အမဲကောင်ကိုရအောင်
၄ ရှာပြီးလျှင်၊- ငါနှစ်သက်တတ်သော အမဲသား
ဟင်းလျာကိုချက်၍၊ ငါ့ထံသို့ယူခဲ့ပါလော့ဟုပြောဆို
၅ ၏။-ထိုသို့ဣဇာက်သည်သားဧသောအားပြော
ဆိုသောစကားကို၊ ရေဗက္ကကြားသည်ဖြစ်၍၊ဧ
သောသည် အမဲသားကိုရအောင်၊ တောသို့အ
၆ ရှာသွားသည်နောက်၊-ရေဗက္ကသည်သားယာကုပ်
၇ ကိုခေါ်၍၊ သင်၏အဘက၊ငါမသေမှီ၊ထာဝရဘု
ရား၏ ရှေ့တော်မှာ သင့်ကို ငါကောင်းကြီး ပေး
မည်အကြောင်း။ ငါစားစရာဖို့အမဲသားကိုယူ
ခဲ့၍၊အမဲဟင်းလျာကိုချက်ပါဟု၊သင်၏အစ်ကို
၈ ဧသောအားပြောသည်ကိုငါကြား၏။- သို့ဖြစ်
၍၊ ငါ့သား၊ ငါမှာထားသမျှသောစကားကိုနား
၉ ထောင်ပါလော့။- ထရုံဆိတ်စုရှိရာသို့သွား၍၊
ကောင်းသော ဆိတ်သငယ်နှစ်ကောင်ကို၊ ငါ့ထံ
သို့ယူခဲ့ပါလော့၊သင်၏အဖမြိန်ရှက်တတ်သော
၁၀ အမဲ ဟင်းလျာကို ငါချက်မည်၊- သင်၏အဖမ
သေမှီ၊သင့်ကိုကောင်းကြီးပေးမည်အကြောင်း။
ထိုအစာကိုအဖစားစေခြင်းငှါ၊ သင်သည်အဖ
၁၁ ထံသို့ ပို့ဆောင်ရမည်ဟု ဆိုလေ၏။- ယာကုပ်
ကလည်း၊ ကျွန်ုပ်အစ်ကို ဧသောကား အမွေးရှိ
သောသူ၊ကျွန်ုပ်ကား၊ချောမွတ်သောသူဖြစ်၏။-
၁၂ ကျွန်ုပ်အဖသည်ကျွန်ုပ်ကိုစမ်းသပ်ကောင်းစမ်း
သပ်လိမ့်မည်၊ သို့ဖြစ်လျှင်၊ကျွန်ုပ်ကိုလှည့်စား
သောသူ ဟူ၍ထင်သဖြင့်၊ ကျွန်ုပ်သည်မင်္ဂလာ
ကိုမရဘဲ၊ ကျိန်ခြင်းအမင်္ဂလာကိုသာ ခံရလိမ့်
၁၃ မည်ဟုအမိကိုဆိုလေ၏။-အမိရေဗက္ကကလည်း၊
သား၊ သင်ခံရသောကျိန်ခြင်းအမင်္ဂလာသည်
ငါ၌ ထင်ရောက်ပါစေ၊ စကားကိုနားထောင်
၍၊ ဆိတ်သငယ်တို့ကိုသာယူခဲ့ပါဟု ဆိုသည်
၁၄ အတိုင်း၊-သူသည်သွား၍၊ ဆိတ်သငယ်တို့ကို
အမိထံသို့ယူခဲ့သဖြင့်၊အမိသည်လည်းအဖမြိန်
ရှက်တတ်သောအမဲဟင်းလျာကိုချက်လေ၏။-
၁၅ ထိုအခါ ရေဗက္ကသည်၊ အိမ်တွင် မိမိထက်၌ရှိ
သော သားကြီး ဧသော၏ အဝတ်၊ ကောင်းမွန်
သော အဝတ်ကိုယူ၍၊ သားငယ် ယာကုပ်ကို
၁၆ ဝတ်စေလျက်၊- ဆိတ် သငယ်၏ သားရေ ကို
လည်းယူ၍၊ သူ၏ လက်၌၎င်း၊ လည်ပင်း ချော
၁၇ သော ထက်၌၎င်း ဆင်ရင် ပြီးလျှင်၊- မိမိ ချက်
သောအမဲဟင်းနှင့် မုန့်ကို သားယာကုပ်လက်၌
အပ်ပေး၏။
၁၈ ယာကုပ်သည်၊ အဖထံသို့ သွား၍၊ အဖဟု
ခေါ်လေ၏၊ အဖကလည်း၊ ငါရှိ၏သား။ သင်
၁၉ သည် အဘယ်သူနည်းဟုမေး၏။- ယာကုပ်က
လည်း၊ အကျွန်ုပ်ကားသားအကြီးဧသောဖြစ်ပါ
၏၊အဖမှာထားသည်အတိုင်းပြုပါပြီ၊ ထ၍ထိုင်
ပါ၊အဖ၏ဝိညာဉ်သည်အကျွန်ုပ်ကိုကောင်းကြီး
ပေးမည်အကြောင်း၊ အကျွန်ုပ်၏ အမဲသားကို
၂၀ စားပါလော့ဟု ဆိုလေ၏။- အဖ ဣဇာက် က

လည်း၊ သား၊ ဤမျှလောက်လျင်မြန်စွာတွေ့ရ
သော အကြောင်း ကား၊ အဘယ်သို့ နည်းဟု
ထား၊အား၊မေးလျှင်၊ အဖ၏ဘုရားသခင်ထာဝ
ရဘုရားသည်အတွေ့နှင့်ကြုံရာသို့ ဆောင်ခဲ့တော်မူ
သောကြောင့်၊လျင်မြန်စွာတွေ့ရပါသည်ဟုပြန်
၂၁ ဆိုလေ၏-ဣဇာက်ကလည်း၊ငါ့သား၊သင်သည်
ငါ့သားဧသောမှန်သည် မမှန်သည်ကို သိလို၍၊
သင့်ကိုငါစမ်းသပ်စေခြင်းငှါ၊ ငါ့ထံသို့ချဉ်း
၂၂ ကပ်ပါလော့ဟုဆိုလျှင်၊- ယာကုပ်သည် အဖ
ထံပါးသို့ချဉ်းကပ်၍၊အဖသည်စမ်းသပ်လျက်၊
အသံကား ယာကုပ်၏ အသံ၊ လက်တို့ကား ဧ
၂၃ သော၏လက်ဖြစ်ပေသည်ဟုဆိုလေ၏- ထိုသို့
သူ၏လက်တို့သည်ဧသော၏လက်ကဲ့သို့အမွေး
ပါသောကြောင့်၊ ယာကုပ်ဖြစ်မှန်းကိုအဖမရိပ်
၂၄ မိသဖြင့်၊ကောင်းကြီးပေးလေ၏၊- သို့ရာတွင်အ
ချင်းကား၊သင်သည် သား၊ဧသော စင်စစ်အမှန်
ပင်ဖြစ်သလောဟုမေးပြန်လျှင်၊ မှန်ပါသည်ဟု
၂၅ ဆို၏- အဖကလည်း၊ ငါ့ထံပါးသို့ သွင်းခဲ့ပါ၊
ငါ့ဝိညာဉ်သည် သင့်ကိုကောင်းကြီး ပေးမည်အ
ကြောင်း။ သား၏အမဲသားကိုငါစားမည်ဟု ဆို
လျှင်၊ယာကုပ်သည်အဖထံပါးသို့သွင်း၍၊အဖ
စားလေ၏၊ စပျစ်ရည် ကိုလည်း ပေး၍၊ အဖ
၂၆ သောက်လေ၏- ထိုနောက်၊ အဖက၊ ငါ့သား
ချဉ်းကပ်၍ငါ့ကိုနမ်းပါလော့ဟုဆိုလျှင်၊ ယာ
၂၇ ကုပ်သည်ချဉ်းကပ်၍အဖကိုနမ်းလေ၏-အဖ
ဣဇာက် ကလည်း၊ သူ့အဝတ်၏ အနံ့ကို ခံ၍
ကြည့်ပါ၊ ငါ့သား၏ အနံ့သည်၊ ထာဝရဘုရား
ကောင်းကြီး ပေးတော်မူသော၊ လယ်၏အမွှေး
၂၈ အကြိုင်နှင့်တူ၏-ထိုကြောင့်ဘုရားသခင်သည်
မိုဃ်းကောင်းကင်၏နှင်းကိုငင်၊ မြေကြီး၏ဆီဥ
ကိုငင်၊များစွာသောဆန်စပါး၊စပျစ်ရည်ကိုငင်၊
၂၉ သင့်အား ပေးတော်မူစေသတည်း၊- လူတပါး
တို့သည်သင်၌ကျွန်ခံ၍၊ အပြည်ပြည်တို့သည်
သင့်ရှေ့မှာ၊ ဦးညွှတ်ရကြစေသတည်း၊ သင်
သည်သင်၏ညီအစ်ကိုတို့၌အရှင်ဖြစ်၍၊သင့်အ
မိ၏သားတို့သည်သင့်ရှေ့မှာဦး ညွှတ်ရကြစေသ
တည်း၊ သင့်ကို ကျိန်ဆဲသောသူ အပေါင်းတို့
သည်ကျိန်ဆဲခြင်းကို ခံရကြစေသတည်း၊ သင့်
ကိုကောင်းကြီးပေးသောသူ အပေါင်းတို့သည်
ကောင်းကြီးကိုခံရကြစေသတည်းဟု၊ ကောင်း
ကြီးပေးလေ၏။
၃၀ ယာကုပ်သည်၊ အဖဣဇာက် ပေးသော
ကောင်းကြီး မင်္ဂလာကို ခံ၍၊ အဖထံမှ ထွက်
သွားသောခဏ ချင်းတွင်၊ အစ်ကိုဧသောသည်
၃၁ ရှာဖွေရာမှရောက်လာ၏-သူသည်လည်းအ
စာကောင်းကိုချက်၍၊ အဖထံသို့ ဆောင်ခဲ့ပြီး
လျှင်၊အကျွန်ုပ်အဖ၏ဝိညာဉ်သည်၊ အကျွန်ုပ်ကို
ကောင်းကြီး ပေးမည်အကြောင်း၊ သား၏အမဲ
၃၂ သားကိုထ၍ စားပါလော့ဟု ဆိုလေ၏- အဖ
ဣဇာက်ကလည်း၊ သင်သည်အဘယ်သူနည်း
ဟုမေးလျှင်၊အကျွန်ုပ်ကား၊သားအကြီးဧသော
ဖြစ်ပါ၏ဟု ဆိုလေသော်၊ အဖ ဣဇာက်သည်
၃၃ အလွန် တုန်လှုပ်၍၊ အဘယ် သူနည်း- အမဲ
သားကိုရ၍၊ ငါ့ထံသို့ဆောင်ခဲ့ပြီးသောသူသည်
အဘယ်မှာရှိသနည်း၊ သင်မရောက်မှီငါသည်
အကုန်အစင်စားပြီး၍၊သူ့ကိုကောင်းကြီးပေးမိ
ပြီ၊ သူသည်ကောင်းကြီးမင်္ဂလာကိုကေန်အမှန်
၃၄ ခံရလိမ့်မည်ဟုဆိုလေ၏- အဖဆိုသောစကား
ကိုဧသောကြားလျှင်၊ အလွန်ပြင်းသော အသံ
နှင့် သည်းထန်စွာ ငိုကြွေးလျက်၊ အိုအဖ၊ အ
ကျွန်ုပ်ကိုလည်း ကောင်းကြီးပေးပါလော့၊ ပေး
၃၅ ပါလော့ဟု ဆိုလေသော်၊- အဖက၊ သင့်ညီသည်
လိမ္မာစွာလာ၍၊ သင်၏ကောင်းကြီးမင်္ဂလာကို
၃၆ ယူသွားပြီဟုဆိုလေ၏-ဧသောကလည်း၊သူ့ကို
ယာကုပ်ဟူသောအမည်ဖြင့် လျောက်ပတ်စွာ
မှည့်ပါပြီ မဟုတ်လော၊ အကျွန်ုပ်ကို နှစ်ကြိမ်
လှည့်စား၍နိုင်ပါပြီ၊ သားဦးအရိပ်အရာကိုအ
ရင်ယူသွားပါပြီ၊ ယခုထည်းတဖန်အကျွန်ုပ်၏
ကောင်းကြီး မင်္ဂလာကို ယူသွားပါပြီဟူ၍ငင်၊
အကျွန်ုပ်အဖို့ ကောင်းကြီးမင်္ဂလာ တပါး ကိုမျှ
၃၇ မချွင်းပါသလောဟူ၍ငင်ဆိုလေ၏-ဣဇာက်
ကလည်း၊ သူ့ကိုသင်၏အရှင်ဖြစ်စေပြီ၊ ညီအစ်
ကိုအပေါင်းတို့ကို သူ၌ကျွန်ခံစေပြီ၊ ဆန်စပါး
စပျစ်ရည် နှင့် သူ့ကို ထောက်မပြီ၊ သို့ဖြစ်၍
သား၊ သင်၌ အဘယ်သို့ ပြုနိုင်တော့ အံ့နည်း
၃၈ ဟု၊ ဧသော အား ပြန် ပြော လျှင်၊- ဧသောက
အိုအဖ၊ ကောင်းကြီးမင်္ဂလာ တစုံတခုမျှ မရှိပါ
သလော၊ အိုအဖ၊ အကျွန်ုပ်ကိုလည်း ကောင်း
ကြီးပေးပါလော့၊ ပေးပါလော့ဟုအဖအားပြော
ဆိုလျက်၊တဖန်အသံကိုလွှင့်၍ငိုကြွေးလေ၏-
၃၉ အဖဣဇာက်ကလည်း၊ကြည့်ရှုပါ၊သင်၏နေရာ
သည် မြေကြီး၏ ဆီဥနှင့် ငင်၊ အထက် မိုဃ်း
၄၀ ကောင်းကင်၏နှင်းနှင့်ငင်ပြည့်စုံလိမ့်မည်၊-ထား
ဖြင့် အသက်ကိုမွေးရလိမ့်မည်၊ ညီ၌ကျွန်ခံရ

ထိမ့်မည်။ နောက်တခါ အစိုးရသောအခါ၊ သူ
တင်သော ထမ်းပိုးကို သင်၏ လည်ပင်းမှ ချိုး
ပယ်လိမ့်မည်ဟုပြန်၍ဆိုလေ၏။
၄၁ ဧသောသည် ယာကုပ် အားပေးသော ကောင်း
ကြီးမင်္ဂလာကြောင့်၊ ဧသောသည် ယာကုပ်ကို
ငြိုးထား၍၊ ငါ့အဘကြောင့်ညည်းတွားရသော
နေ့ရက်ကာလ အနီးနီးပြီ၊ ထိုအခါ ငါ့ညီယာ
ကုပ်ကိုငါသတ်မည်ဟု၊ အကြံနှင့်ပြောလေ၏။—
၄၂ ထိုသို့သားကြီးဧသော ပြောသောစကားကို အမိ
ရေဗက္က ကြားလျှင်၊ သားငယ်ယာကုပ်ကို ခေါ်
၍၊ သင်၏အစ်ကိုဧသောသည် သင့်ကိုသတ်ထ
၄၃ ဖြင့်၊သင့်အမှု၌စိတ်ပြေလိမ့်မည်။— ထိုကြောင့်၊
သား၊ ငါ့စကားကိုနားထောင်ပါ၊ ငါ့မောင်လာ
ဗန်နေရာခါရန်မြို့သို့ထ၍ ပြေးသွား ပါလော့။—
၄၄ သင်၏အစ်ကို စိတ်ပြေသည်တိုင်အောင်၊ သူထံ
၄၅ မှာခဏ ရှောင်၍ နေပါလော့။— သင်၏အစ်ကို
စိတ်ပြေ၍၊သင်သည်သူ၌ပြုသောအမှုကိုသူမေ့
လျော့သောအခါ၊ငါမှာလိုက်၍၊ထိုအရပ်မှသင့်
ကိုဆောင်ခဲ့စေမည်။ သား နှစ်ယောက်လုံးကို
တနေ့တွင်းအထယ်ကြောင့်ငါရှုံးရမည်နည်း။
၄၆ ဟုဆိုလေ၏။— တဖန်ရေဗက္ကသည်ဣဇာက်ထံ
သို့သွား၍၊ ကျွန်မသည် ဟေသအမျိုးသမီးတို့
ကြောင့်၊ကိုယ်အသက်ကိုငြီးငွေ့၏။ ဤပြည်
သူဦးကဲ့သို့သောသူ၊ ဟေသအမျိုးသမီးနှင့်ယာ
ကုပ်အိမ်ထောင်ဖက် ပြုလျှင်၊ ကျွန်မ အသက်
ရှင်၍ အဘယ်ကျေးဇူး ရှိပါလိမ့်မည်နည်းဟု
ပြောဆိုလေ၏။

## ၂၈

၁ ထိုအခါ ဣဇာက်သည် ယာကုပ်ကို ခေါ်၍၊
သင်သည်ခါနာန်အမျိုးသမီးနှင့် အိမ်ထောင်ဖက်
မပြုရ၊— အမိ၏အဘဗေသွေလ အမျိုးသားနေရာ
ပါဒနာရံအရပ်သို့ထ၍ သွားလော့။ သင့်ဦးရီး
လာဗန်၏ သမီးတစုံတယောက်နှင့် အိမ်ထောင်
၃ ဖက်ပြုလော့။— အနန္တ တန်ခိုးရှင် ဘုရားသခင်
သည်ကောင်းကြီးပေး၍တိုးပွားစေသဖြင့်၊ သင်
သည် အမျိုးကြီး ဖြစ်မည်အကြောင်းနှင့်၊ များ
၄ ပြားစေတော်မူစေသတည်း။—အထက်ကအာဗြ
ဟံအားပေးတော်မူ၍၊ သင်ယခုဧည့်သည်ဖြစ်
လျက်နေသောဤပြည်ကို၊ သင်အမွေခံရမည်အ
ကြောင်း၊ သင့်အားရင်၊ သင်၏ အမျိုးအနွယ်
အားရင်၊အာဗြဟံ၏ကောင်းကြီးမင်္ဂလာကိုပေး
တော်မူစေသတည်းဟု၊ ကောင်းကြီး ပေးလျက်
၅ မှာထား၍ လွှတ်လိုက်လေ၏။— ထိုသို့ ယာကုပ်
နှင့် ဧသော၏အမိ၊ ရေဗက္က၏မောင်၊ ရှုရိလူဗေ
သွေလသား၊ လာဗန်ရှိရာပါဒနာရံပြည်သို့ ယာ
ကုပ်သွားလေ၏။
၆ ထိုသို့ ဣဇာက်သည် ယာကုပ်ကိုကောင်းကြီး
ပေး၍၊ ပါဒနာရံပြည်၌ အိမ်ထောင်ဖက် ပြုစေ
ခြင်းငှါ လွှတ် လိုက် သော အကြောင်းကိုရင်၊
ခါနာန်အမျိုးသမီးနှင့်အိမ်ထောက်ဖက်မပြုရဟု၊
ကောင်းကြီး ပေးသော အခါ မှာထား ကြောင်း
၇ ကိုရင်၊—ယာကုပ်သည် မိဘစကားကိုနားထောင်
၈ ၍၊ပါဒနာရံပြည်သို့သွားကြောင်းကိုရင်၊—ခါနာန်
အ မျိုး သမီး တို့ ကို အဘ ဣ ဇာက် မနှစ် သက်
၉ ကြောင်းကိုရင်၊ ဧသောသိမြင်လျှင်၊— ဣရှမေလ
ထံသို့သွား၍၊အထက်မယားတို့မှတပါး၊အာဗြ
ဟံသား ဣရှမေလသမီး၊ နဗာယုတ်နှမ၊ မဟာ
လတ်နှင့်တဖန်အိမ်ထောင်ဖက်ပြုပြန်လေ၏။
၁၀ ယာကုပ်သည် ဗေရရှေဘ ရွာမှထွက်၍၊ ခါ
၁၁ ရန်ပြည်သို့ခရီးသွားစဉ်တွင်၊— တစုံတခုသော
အရပ်သို့ ရောက်၍၊ မိုဃ်းချုပ် သော့ကြောင့်၊
ညဉ့်ကို လွန်စေမည်အကြံ ရှိသည်နှင့်၊ ထိုအ
ရပ်၌ ကျောက်ကို ယူ၍ ခေါင်းအုံးဘို့ ထားပြီး
၁၂ လျှင်အိပ်လေ၏၊—မြင်ရသောအိပ်မက်ဟူမူကား၊
မြေကြီးပေါ်၌ လှေကား ထောင်လျက် အဖျား
သည်မိုဃ်းကောင်းကင်တိုင်အောင်ရှိ၏။ဘုရား
သခင်၏ကောင်းကင်တမန်တို့သည်၊ထိုလှေကား
၁၃ ဖြင့် ဆင်းလျက် တက်လျက်ရှိကြ၏။— ထာဝရ
ဘုရားသည်လှေကားထက်၌ ရပ်တော်မူလျက်၊
ငါသည်သင်၏အဘအာဗြဟံ၏ဘုရား၊ ဣဇာက်
၏ဘုရား တည်းဟူသော၊ ထာဝရဘုရားဖြစ်၏။
သင် အိပ် သော မြေကို သင်နှင့် သင်၏ အမျိုး
၁၄ အနွယ်အား ငါပေးမည်။— သင်၏ အမျိုး အ
နွယ်သည်မြေမှုန့်ကဲ့သို့များပြားလိမ့်မည်။ အ
နောက်၊အရှေ့၊တောင်၊ မြောက်၊ လေးမျက်နှာ
အရပ်တို့သို့ နှံ့ပြားကြလိမ့်မည်။ သင်နှင့်သင်၏
အမျိုးအနွယ်အားဖြင့်လူမျိုး အပေါင်းတို့သည်
၁၅ ကောင်းကြီး မင်္ဂလာကို ခံရကြလိမ့်မည်။— ငါ
သည် သင့်အက်မှာရှိ၏။ သင်သွား လေရာရာ၌
ငါစောင့်မမည်။ ဤပြည်သို့ တဖန် ဆောင်ခဲ့ဦး
မည်။ ဂတိထားသည်အတိုင်းမပြည့်စုံမှီ၊ သင့်
၁၆ ကို ငါမစွန့်ဟု မိန့်တော်မူ၏။— ယာကုပ်သည်
အိပ်ပျော်ရာမှနိုးလျှင်၊ အကယ်စင်စစ် ထာဝရ
ဘုရားသည် ဤအရပ်၌ ရှိတော်မူ၏။ ရှိတော်မူ

၁၇ ကြောက်ခြင်းရှိ၍၊ ဤအရပ်သည် အလွန်ကြောက်မက်ဘွယ်သော အရပ်ဖြစ်၏၊ ဤအရပ်ကား၊ ဘုရားသခင်၏အိမ်တော်မှတပါး၊ အခြားမဟုတ်၊ ကောင်းကင်ဘုံ၏တံခါးဝ ဖြစ်သည်တကားဟု၊ ကြောက်ရွံ့ခြင်းသို့ရောက်၍ ဆို၏။
၁၈ နံနက် စောစော ယာကုပ်သည်ထ၍၊ ခေါင်းအုံးသောကျောက်ကို ယူ၍ မှတ်တိုင်ဖြစ်စေ ထူထောင်ပြီးလျှင်၊ ကျောက်ထိပ်မှာ ဆီ
၁၉ လောင်း၍ ထိုအရပ်ကို လုဇမြို့ဟုခေါ်သော်လည်း၊ ဗေသလအမည်ဖြင့်မှည့်လေ၏။ ထိုမြို့၏အမည်
၂၀ ဟောင်းကား၊ လုဇ ဖြစ်သတည်း။ ထိုအခါ ယာကုပ်က၊ ဘုရားသခင်သည် ငါနှင့်အတူရှိ၍၊ ငါသွားရာလမ်းမှာ ငါ့ကိုစောင့်မ၍ စားစရာအစာ၊ ဝတ်စရာအဝတ်ကို ပေးသနားတော်မူ
၂၁ လျှင်၎င်း၊ ငါသည်ငါ့အဘ၏အိမ်သို့ငြိမ်ဝပ်စွာပြန်ရောက်၍၊ ထာဝရဘုရားသည် ငါ၏ဘုရားဖြစ်တော်မူလျှင်၎င်း၊ မှတ်တိုင်ပြု၍ ငါထူထောင်သော ဤကျောက်သည် ဘုရားသခင်၏အိမ်
၂၂ ဖြစ်ရမည်။ ပေးသနားတော်မူသမျှ ထိုက်ထိုက်ထဲက ဆယ်ဘို့တဘို့ကို ကိုယ်တော်အား ငါဆက်ပါမည်ဟု သစ္စာပြုလေ၏။

၂၉

၁ ထိုနောက် ယာကုပ်သည် ခရီးသွား၍၊ အရှေ့ပြည်
၂ သားတို့နေရာ အရပ်သို့ ရောက်ပြီးလျှင်၊ မျှော်ကြည့်၍ တောအရပ်၌ ရေတွင်း တခုကို မြင်၏။ ထိုတွင်းရေဖြင့် သိုးစုများကို တိုက်တတ်သည်ဖြစ်၍၊ တွင်းနားမှာသိုးစုသုံးစု ဝပ်လျက်ရှိ၏။ ရေ
၃ တွင်းဝပေါ်မှာကြီးစွာသောကျောက်ရှိ၏။ သိုးထိန်းအပေါင်းတို့သည် ထိုအရပ်၌ စုဝေးသောအခါ၊ ရေတွင်း ဝ၌ ဖုံးအုပ်သော ကျောက် ကို လှိမ့်လှန်၍၊ သိုးများကို ရေတိုက်ပြီးလျှင်၊ ထိုကျောက်ကို မိမိနေရာ ရေတွင်းဝပေါ်မှာ တဖန်
၄ တင်ထားလေ့ရှိ၏။ ယာကုပ်ကလည်း၊ ညီအစ်ကိုတို့၊ သင်တို့သည်အဘယ်အရပ်ကလာကြသနည်းဟုမေးလျှင်၊ ငါတို့သည်ခါရန်မြို့ကလာကြ
၅ သည်ဟုပြောဆိုလေ၏။ တဖန်ယာကုပ်က၊ နာခေါ်သားလာဗန်ကို သိသလောဟုမေးလျှင်၊ သိ
၆ ၏ဟုပြန်ဆိုသော်၊ သူသည်မာပါ၏လောဟုတဖန်မေးပြန်လျှင်၊ မာပါ၏၊ သူ၏သမီး ရာခေလသည် သိုးများနှင့်တကွလာလိမ့်မည်ဟု ဆိုကြလေ၏။
၇ ယာကုပ်ကလည်း၊ နေ့အချိန်အလွန်များစွာ ရှိသေး၏၊ သိုးတို့ကိုစုဝေးရာအချိန် မဟုတ်သေး၊ ရေတိုက်ပြီးလျှင်၊ သွား၍ထိန်းကြ ဦးလော့ဟု
၈ ဆိုလေ၏။ ထိုသူတို့ကလည်း၊ သိုးထိန်းအပေါင်း စုဝေး၍၊ ရေတွင်းဝ၌ဖုံးအုပ်သော ကျောက်ကို လှိမ့်လှန်ပြီးမှသာ၊ သိုးတို့ကိုရေတိုက်ရ၏၊ ထိုမှ
၉ ထုတ်၍မတိုက်ရဟု ပြန်ဆိုကြ၏။ ထိုသို့တဦးနှင့်တဦး နှုတ်ဆက်ကြစဉ်တွင်၊ ရာခေလသည်၊ မိမိအဘ၏ သိုးတို့ကိုထိန်းရသည်ဖြစ်၍၊ သိုးတို့ကို
၁၀ ဆောင်လျက်လာ၏။ ယာကုပ်သည်၊ မိမိဦးရီး လာဗန်၏သမီး ရာခေလနှင့်ဦးရီးလာဗန်၏သိုးတို့ ကိုမြင်သောအခါ၊ အနီးသို့ချဉ်း၍၊ ရေတွင်းဝ၌ဖုံး အုပ်သော ကျောက်ကို လှိမ့်လှန်ပြီးလျှင်၊ ဦးရီး
၁၁ လာဗန်၏သိုးတို့ကိုရေတိုက်လေ၏။ ထိုနောက်၊ ယာကုပ်သည်ရာခေလကိုနမ်း၍၊ ကျယ်သောအ
၁၂ သံနှင့်ငိုလေ၏။ မိမိသည် ရာခေလ အဘ၏တူ၊ ရေဗက္ကာ၏သားဖြစ်ကြောင်းကို ကြားပြောလျှင်၊ ရာခေလသည်ပြေး၍ မိမိအဘအားပြန်ကြားလေ
၁၃ ၏။ လာဗန်သည် မိမိတူ ယာကုပ်၏ သိတင်းစကားကိုကြားသောအခါ၊ ကြိုဆိုခြင်းငှါ အလျင်အမြန်သွား၍၊ ပိုက်ဖက်နမ်းရှုပ်လျက် မိမိအိမ်သို့ဆောင်သွားလေ၏၊ ယာကုပ်သည်လည်း မိမိ
၁၄ အမှုအရာ ရှိသမျှကိုကြားပြောလျှင်၊ လာဗန်က၊ အကယ်စင်စစ်သင်သည် ငါ့အရိုးအသားပင်ဖြစ်၏ဟု ဆိုလေ၏။
၁၅ ယာကုပ်သည် တလခန့်မျှ နေပြီးမှ၊ လာဗန်က၊ သင်သည်ငါ့တူဖြစ်သောကြောင့်၊ အချည်းနှီး ကျွန်ခံရပါမည်လော၊ ခံလိုသောအခကိုငါ့အား
၁၆ ပြောလော့ဟုဆိုလေ၏။ ထိုအခါလာဗန်၌သမီးနှစ်ယောက်ရှိ၏၊ အကြီးကား လေအာအမည်
၁၇ ရှိ၏၊ အငယ်ကား၊ ရာခေလအမည်ရှိ၏။ လေအာကား မျက်စိနုညံ့၏၊ ရာခေလကား ပုံဖြစ်သည် ကျေး၍ အဆင်း အထင်း လည်း လှ၏။
၁၈ ယာကုပ်သည်ရာခေလကိုချစ်သောကြောင့်၊ လာဗန်အား၊ ဦးမင်း၏သမီးအငယ် ရာခေလကိုရခြင်း
၁၉ ငှါ၊ ခုနစ်နှစ်အစေခံပါမည်ဟု ဆိုလျှင်၊ လာဗန်က၊ အခြားသောသူအား ပေးစား၍ ထည့်ထက်၊ သင့်အားပေးစားသော်သာ၍ကောင်း၏၊ ငါနှင့်
၂၀ အတူနေလော့ဟု ဆို၏။ ယာကုပ်သည်လည်း ရာခေလကိုရခြင်းငှါ ခုနစ်နှစ်အစေခံလေ၏၊ ရာခေလကို ချစ်သောကြောင့်၊ ခုနစ်နှစ် ကို နည်းသောနေ့ရက်ကဲ့သို့ထင်မှတ်သတည်း။
၂၁ ယာကုပ်ကလည်း၊ ချိန်းချက်သောအချိန်စေ့ ပါပြီ၊ ကျွန်ုပ်သည်မယားနှင့်ဆက်ဆံမည့်အရာ ပေး
၂၂ စားပါဟုလာဗန်အား ဆိုလျှင်၊ လာဗန်သည်

ဖုအရပ်၌နေသောသူအပေါင်းတို့ကို စည်းဝေး
၂၂ စေ၍ပွဲလုပ်ထော်၏။– ညဉ့်အချိန်ရောက်မှ၊ ဖိုထ
၂၃ ပထမည်ရှိသောသမီးလေအာ၌ထက်ဖွဲ့
လျက်၊ ထိုသို့ကိုဆောင်သွင်း၍၊ယာကုပ်သည်
၂၅ သူနှင့် ဆက်ဆံလေ၏။– နံနက်အချိန် ရောက်မှ
ယာကုပ်သည်ကြည့်ရှုသောအခါ၊လေအာဖြစ်
ကြောင်းကို သိမြင်လျှင်၊ လာဗန်ထံသို့ သွား၍
ကျွန်ုပ်၌ ပြုသောအမှုကား၊ အဘယ်သို့ နည်း။
ကျွန်ုပ်သည် ရာခေလကိုရခြင်းငှါ အစေခံရပြီမ
ဟုတ်လော။ ကျွန်ုပ်ကိုအဘယ်ကြောင့်လှည့်စား
၂၆ ရသနည်းဟုဆိုသော်၊– လာဗန်က၊ငါတို့ပြည်၌
ထွေးအကြီးကိုမပေးစားမှီ၊ ငယ်ကို မပေးစား
၂၇ ရ။– ခုနစ်ရက် နေသောင်ပွဲဦးလော့။ နောက်တ
ဖန်ခုနစ်နှစ်အစေခံရသည်အတွက်၊ရာခေလကို
လည်း သင့်အား ပေးစားဦးမည်ဟု ဆိုသည်အ
၂၈ တိုင်း၊– ယာကုပ်ဝန်ခံ၍ခုနစ်ရက်စေ့ပြီးမှ၊လာ
၂၉ ဗန်သည်မိမိထံ၌ရှိသောကျွန်မကိုထက်
ဖွဲ့လျက်၊ သို့ ရာခေလ ကို ပေး စား လေ၏။–
၃၀ ယာကုပ်သည်ရာခေလနှင့်ဆက်ဆံ၍၊ လေအာ
ကို နှစ်သည်ထက် သာ၍ ချစ်၏၊ လာဗန်ထံမှာ
တဖန်ခုနစ်နှစ်အစေခံလေ၏။
၃၁ လေအာသည် အရှုံးခံရသည်ကိုထာဝရဘု
ရား သိမြင်၍၊ သား ဖွားရသော အခွင့်ကို ပေး
၃၂ တော်မူ၏၊ရာခေလမူကား မြုံ၏။– လေအာသည်
ပဋိသန္ဓေယူသဖြင့်၊ သားကိုဖွားမြင်၍ရုဗင်အ
မည်ဖြင့်မှည့်လေ၏၊ အကြောင်းမူကား၊ထာဝရ
ဘုရားသည် ငါ၏ဆင်းရဲခံခြင်းကိုအမှန်ကြည့်
ရှုတော်မူပြီ။ ထို့ကြောင့် ယခုငါ့လင်သည် ငါ့ကို
၃၃ ချစ်လိမ့်မည်ဟုဆိုသတည်း။– တဖန်ပဋိသန္ဓေ
ယူပြန်၍ သားကို ဖွားမြင်သော်၊ ငါသည် အ
ရှုံးခံရကြောင်းကို ထာဝရဘုရား ကြားသော
ကြောင့်၊ ဤသားကိုလည်းပေးသနားတော်မူပြီ
ဟုဆိုပြီးလျှင်၊ ထိုသားကို ရှိမောင် အမည်ဖြင့်
၃၄ မှည့်လေ၏။– တဖန်ပဋိသန္ဓေယူပြန်၍သားကို
ဖွားမြင်သော်၊ ငါသည်အား သားသုံးယောက်ကို
ငါဖွားမြင်သောကြောင့်၊ ယခု တခါ သူသည်
ငါနှင့် ပေါင်းဖော် လိမ့်မည်ဟုဆို၍၊ ထိုသားကို
၃၅ လေဝိအမည်ဖြင့်မှည့်လေ၏။– တဖန်ပဋိသန္ဓေ
ယူပြန်၍ သားကို ဖွားမြင်သော်၊ ထာဝရဘုရား
ကို ယခုငါချီးမွမ်းမည်ဟု ဆိုသည်ဖြစ်၍၊ ထို
သားကိုယုဒအမည်ဖြင့်မှည့်လေ၏၊ ထိုနောက်၊
သားမဖြတ်၍မဖွားဘဲနေ၏။

၃၀

၁ ရာခေလ သည် ယာကုပ်အား သားမဖွား
ကြောင်းကို မိမိသိမြင်သောအခါ၊ အစ်မကိုငြူစူ
သော စိတ်ရှိ၍၊ ငါ့အား သားကို ပေးပါ။ သို့မ
ဟုတ်ငါသေတော့မည်ဟု ယာကုပ်ကိုဆိုလေ၏။
၂ ယာကုပ်ကလည်း၊ ငါသည်သင့်အားသားဖွား
သောအခွင့်ကို ပေးတော်မမူသော ဘုရားသခင်
ကိုယ်စားတော် ဖြစ်သလောဟု၊ ရာခေလကိုအ
၃ မျက်ထွက်၍ပြန်ဆို၏။– ရာခေလကလည်း၊အ
ကျွန်ုပ်၌ကျွန်မဗိလဟာရှိပါ၏၊ သူထံသို့ဝင်ပါ၊
သူသည်အကျွန်ုပ်ဒူးပေါ်မှာသားဖွား၍၊သူအား
ဖြင့်အကျွန်ုပ်လည်းတည်ဆောက်ခြင်းရှိပါလိမ့်
၄ မည်ဟုဆိုလျက်၊–ကျွန်မဗိလဟာကို ယာကုပ်
၏မယားဖြစ်စေခြင်းငှါအပ်၍၊သူထံသို့ယာကုပ်
၅ ဝင်လေ၏။– ဗိလဟာသည်ပဋိသန္ဓေယူ၍၊ယာ
၆ ကုပ်အားသားကိုဖွားမြင်သည်ရှိသော်၊– ရာခေ
လက၊ ဘုရားသခင်သည် ငါ့ကို၌ တရားစီရင်
တော်မူပြီ။ ငါ့စကားကိုကြား၍သားကို ပေးသ
နားတော်မူပြီဟုဆိုသည်နှင့်အညီ၊ထိုသားကိုဒန်
၇ အမည်ဖြင့်မှည့်လေ၏။–တဖန်ရာခေလ၏ ကျွန်
မဗိလဟာသည် ပဋိသန္ဓေ ယူပြန်၍၊ ယာကုပ်
အား နှစ်ကြိမ်မြောက် သော သား ကို ဖွားမြင်
၈ သည်ရှိသော်၊–ရာခေလက၊ငါသည်ငါ့အစ်မနှင့်
ကြပ်ကြပ်လုံးထွေး၍ နိုင်ခဲ့ပြီဟုဆို၍၊ ထိုသား
ကိုနဿလိအမည်ဖြင့်မှည့်လေ၏။
၉ လေအာသည်သားဖြတ်၍မဖွားဘဲနေကြောင်း
ကို မိမိသိမြင်သောအခါ၊ မိမိကျွန်မ ဇိလပကို
ယူ၍၊ယာကုပ်၏မယားဖြစ်စေခြင်းငှါအပ်လေ
၁၀ ၏။– လေအာ၏ကျွန်မ ဇိလပ သည်လည်း ယာ
၁၁ ကုပ်အား သားကို ဖွားမြင်သည်ရှိသော်၊– လေ
အာက၊ကောင်းကျိုးလာသည်ဟုဆို၍၊ထိုသား
၁၂ ကိုဂဒ်အမည်ဖြင့်မှည့်လေ၏။– တဖန်လေအာ
၏ကျွန်မ ဇိလပသည် ယာကုပ်အား နှစ်ကြိမ်
မြောက်သောသားကို ဖွားမြင်သည် ရှိသော်၊–
၁၃ လေအာက၊ ငါ၌မင်္ဂလာရှိ၏၊ လူသို့၊ တို့သည်
ငါ့ကိုမင်္ဂလာရှိသောသူဟူ၍ ခေါ်ကြ လိမ့်မည်
ဟုဆိုသဖြင့်၊ ထိုသားကိုအာရှာအမည်ဖြင့်မှည့်
လေ၏။
၁၄ ထိုနောက်၊ ဂျုံ စပါးကို ရိတ်သိမ်းသော အချိန်
ကာလ၌၊ရုဗင်သည်လယ်ပြင်သို့ထွက်သွားပြီး
လျှင်၊ အနုဆေးသီးကိုတွေ့၍၊ မိမိအမိလေအာ
ထံသို့ဆောင်ခဲ့လေ၏။ ရာခေလကလည်း၊သင်၏



 

သား ရခဲ့ သော အနု ဆေးသီး အချို့ ကို ပေးပါ
၁၅ လော့ဟု၊ လေအာကိုတောင်းလျှင်၊- လေအာ
က၊ထင်သည်ငထင်ကိုယူ၍အတွတ်မရှိထင်သ
လော၊ သော၊၏ အနုဆေးသီးကိုထည်း ယူချင်
သေးသည် တကားဟု ဆိုလေသော်၊ ရာခေလ
က၊ သို့ဖြစ်လျှင်၊ သင့်သား၏ အနုဆေးသီး အ
တွက်၊ထင်သည်ယနေ့ညည့်တွင် သင်နှင့်အိပ်ရ
၁၆ မည်ဟုဆို၏။- ညဦးအချိန်၌၊ ထယ်ပြင်မှယာ
ကုပ် လာသောအခါ၊ လေအာသည် ခရီးဦးကြို
ပြုခြင်းငှါသွား၍၊သင်သည် အကျွန်ုပ်ထံသို့ဝင်
ရမည်၊ အကျွန်ုပ်၏သားရခဲ့သော အနုဆေးသီး
နှင့်သင့်ကို အကျွန်ုပ်ငှါးသည်မှန်ပါ၏ဟု ဆိုသ
၁၇ ဖြင့်၊ထိုနေ့ညည့်တွင်သူနှင့်အိပ်ရလေ၏။- လေ
အာ စကားကို ဘုရားသခင် နားထောင် တော်မူ
သဖြင့်၊ သူသည် ပဋိသန္ဓေယူ၍၊ ယာကုပ်အား
၁၈ ပဉ္စမသားကိုဖွား၊မြင်လေသော်၊- ကျွန်မကို
လင်အားပေးသောကြောင့်၊ဘုရားသခင်သည်
ငအား အခကို ပေးတော် မူပြီဟုဆို၍၊ ထိုသား
၁၉ ကိုဣသခါ အမည်ဖြင့်မှည့်လေ၏။- တဖန်လေ
အာသည်ပဋိသန္ဓေ ယူပြန်၍၊ ယာကုပ်အား ဆ
၂၀ ဋ္ဌမသားကို ဖွားမြင်လေသော်၊- ဘုရားသခင်
သည်၊ကောင်းသောထက်ဖွဲ့ကိုပေးသနားတော်
မူပြီ၊ ငလင်အား သားခြောက်ယောက်ကို ဖွား
မြင်သောကြောင့်၊ ယခုငါနှင့် အမြဲနေလိမ့်မည်
ဟုဆို၍၊ ထိုသားကို ဇာဗုလုန်အမည်ဖြင့်မှည့်
၂၁ လေ၏။- ထိုနောက်မှ သမီးကိုဖွား၍ ဒိနအမည်
ဖြင့်မှည့်လေ၏။
၂၂ ထိုအခါဘုရားသခင်သည်ရာခေလကိုအောက်မေ့
ငေ့တော်မူ၏၊သူ၏စကားကိုနားထောင်၍၊သား
၂၃ ဖွားသောအခွင့်ကိုပေးတော်မူသဖြင့်၊-သူသည်
ပဋိ သန္ဓေယူ၍ သားကို ဖွား မြင် လျှင်၊ ငါခံရ
သောကဲ့ရဲ့ခြင်း၊အကြောင်းကိုဘုရားသခင်သည်
၂၄ ပယ်တော်မူပြီဟူ၍၎င်း၊- ထာဝရဘုရားသည်
အခြားသော သားကို ထပ်၍ပေးတော် မူပါစေ
သောဟူ၍၎င်းဆိုလျက်၊ ထိုသားကို ယောသပ်
အမည်ဖြင့်မှည့်လေ၏။
၂၅ ရာခေလသည်ယောသပ်ကို ဖွားမြင်ပြီးသော
နောက်၊ ယာကုပ်က၊ အကျွန်ုပ်သည် ကိုယ်နေ
ရင်း ပြည်သို့ သွား မည် အကြောင်း၊ ကျွန်ုပ် ကို
၂၆ လွှတ်ပါလော့၊- ကျွန်ုပ်သည်အစေခံ၍ ရသော
မယား၊နှင့်သားတို့ကိုဆောင်ယူ၍ သွားရသော
အခွင့်ကို ပေးပါလော့၊ ကျွန်ုပ်အစေခံသည် အ
ကြောင်းကို အမသိပါသည်ဟု လာဗန်အားဆို
၂၇ လျှင်၊-လာဗန်က၊သင်၏မိတ်နှင့်တွေ့ပါစေ၊ထာ
ဝရ ဘုရားသည် သင်၏ အကြောင်းကြောင့် င
အား ကောင်းကြီးပေးတော်မူသည်ကို ငါရိပ်မိ
၂၈ ပြီ၊- ငါပေးရမည်အခကိုပြောပါ၊ ငါပေးမည်
၂၉ ဟုဆိုလေသော်၊- ကျွန်ုပ်သည်အစေခံ အသယ်
သို့ အစေခံ သည်ကို၎င်း၊ အမ၏ တိရစ္ဆာန် ထို
သည် ကျွန်ုပ်၌အဘယ်သို့ရှိနေသည်ကို၎င်းအမ
၃၀ သိပါ၏။-အထက်ကအမ၏ဥစ္စာနည်းလှ၏၊ထခု
ထိုး ပွား၍များပြားလျက်ရှိ၏၊ ကျွန်ုပ် သွားလော
ထုပ်ကိုင်သောအားဖြင့်၊ထာဝရဘုရားသည်အမ
၏အား ကောင်း ကြီး ပေးတော် မူပြီ၊ ယခု မှာ၊
ကျွန်ုပ်သည် ကိုယ်အိမ်သူ အိမ်သား တို့ကို အ
ဘယ်သောအခါ ကျွန်ုပ် ပြုစုရပါမည်နည်းဟုဆို
၃၁ လေ၏။-လာဗန်ကလည်း၊ အဘယ်အခကိုပေး
ရမည်နည်းဟုမေးပြန်လျှင်၊ ယာကုပ်က၊ အာ
ကိုမျှမပေးပါနှင့်၊ ကျွန်ုပ်၌ ကျေးဇူးတခု ပြုထို
လျှင်၊ အမ၏သိုးစု၊ ဆိတ်စုကို တဖန်ကျွေး မွေး
၃၂ စောင့်ထိန်းပါဦးမည်၊- ယနေ့သိုးစု၊ဆိတ်စုတ
ရှောက် လုံးကို ကျွန်ုပ် သွား၍၊ ပြောက် ကျား
သောဆိတ်များ၊ ပြိုသော သိုးများ မှိုသမျှတို့ကို
ရွေး၍နှုတ်ခွဲထားပါမည်၊နောက်မှပြောက်ကျား
သောဆိတ်၊ ပြိုသောသိုးတို့သည် ကျွန်ုပ်၏ အခ
၃၃ ဖြစ်စေလော့၊-သို့ဖြစ်၍၊နောင်ကာလ၌ကျွန်ုပ်၏
အခသည်၊အမရှေ့သို့ရောက်သောအခါ၊ ကျွန်ုပ်
၏ဖြောင့်မတ်ခြင်းသည် ကျွန်ုပ်ကိုစောင့်ရှောက်
ပါလိမ့်မည်၊ မပြောက်မကျားသောဆိတ်၊ မပြို
သောသိုး၊ရှိသမျှတို့ကို၊ကျွန်ုပ်ခိုးသောအကောင်
၃၄ ဟူ၍ မှတ်စေ လော့ဟု ဆိုလေ၏။- လာဗန် က
လည်း၊သင်ပြောတိုင်း၊ဖြစ်စေလော့ဟုဝန်ခံ၍၊ထို
နေ့၌ပင်၊ ပြောက်ကျားသောဆိတ်ထီး၊ပြောက်
၃၅ ကျားသောဆိတ်မ၊- တဖြူပါသောဆိတ်ရှိသမျှ
တို့နှင့်၊ အဆင်းပြိုသောသိုး၊ရှိသမျှတို့ကိုရွေး၍၊
၃၆ မိမိသားတို့လက်သို့အပ်ပေးလေ၏။- ကိုယ်နေ
ရာအရပ်နှင့်၊ ယာကုပ်နေရာအရပ်ကိုသုံးရက်ခ
ရီးကွာစေခြင်းငှါ စီရင်သေး၏၊ ယာကုပ် သည်
ကြွင်း သော လာဗန်၏ သိုး ဆိတ် များကို ထိန်း
လျက်နေရလေ၏။
၃၇ ထိုအခါ ယာကုပ်သည်၊ စိမ်းသော ထိမ္ဗနာ
ပင်၊ လုဇပင်၊ အာရမုန်ပင် တို့၏ အခက်တံမှာ
များကိုယူ၍၊ အဖြူ၊ အစိမ်း၊ အတန့်တန့် ပေါ်
ထောင်အခွံကိုလှီး၍ခွါပြီးလျှင်၊-ရသောက်ထာ

အေးသဖြင့်၊ ဆိတ်အထီးအမရှုတ်တင်စေခြင်းအ
ကြိမ်ရှိ၍ရေသောက်လာသောအခါ၊ အခွံခွါပြီး
သော တံပျဉ်တို့ကို ရေသောက်ကျင်း၊ သောက်
ခွက်တို့၌ သိုးဆိတ်တို့ရှေ့မှာ ရိုက်ထားလေ၏။-
၃၉ သိုးဆိတ်တို့သည်တံပျဉ်များရှေ့မှာရှုတ်တင်၍၊
အပြောက် အကျား စသည်တို့ကို ဘွား ကြ၏။-
ယာကုပ်သည်သိုး၊ ဆိတ်သငယ်တို့ကိုလည်းခွဲ
ထား၍၊ လာဗန်၏သိုး၊ ဆိတ်စုတွင် အဆင်း
ပြောက်ကျားသောအကောင်၊ အဆင်းညိုသော
အကောင် ရှိသမျှတို့ ရှေ့မှာ သိုး ဆိတ် များကို
မျက်နှာမူစေ၏။ မိမိတိရိစ္ဆာန်များနှင့်လာဗန်
၏ တိရိစ္ဆာန်များကိုလည်း မရောမနှော စေ၏၊
၄၁ ထစုမိခွဲထားလေ၏။- အားကြီးသောအကောင်
တို့သည်ရှုတ်တင်သောအခါ၊တံပျဉ်တို့တွင်ရှုတ်
တင်စေခြင်းငှါ၊ ယာကုပ်သည်တံပျဉ်များကိုရေ
ကျင်း၌၊ သူတို့မျက်မှောက်တွင် သားထားတတ်၏။-
၄၂ အားနည်းသောအကောင်တို့ရှေ့မှာတံပျဉ်တို့ကို
မဖြစ်ထား။ထိုကြောင့်အားနည်းသောအကောင်
တို့သည် လာဗန်၏ ဥစ္စာဖြစ်လေ၏၊ အားကြီး
သောအကောင်တို့မူကား၊ ယာကုပ်၏ဥစ္စာဖြစ်
၄၃ စေ၏။- ထိုသို့ယာကုပ်၌ စည်းစိမ်ထိုး ပွား၍၊
သိုး၊ ဆိတ်၊ ကျွန်ယောက်ျားကျွန်မိန်း၊ ကုလား
အုတ်၊ မြည်းများရှိကြ၏။

၃၁

၁ ထိုအခါလာဗန်သားတို့က၊ငါတို့ခမည်း၏ဥစ္စာ
ရှိသမျှကိုယာကုပ်သည်ယူသွားလေပြီတကား၊
ငါတို့ အဘ၏ ဥစ္စာ အားဖြင့်၊ သူ၌ ဤမည်သော
စည်းစိမ်ရှိသမျှသည်ဖြစ်လေပြီဟု၊ ဆိုကြသည်
၂ ကိုယာကုပ်ကြား၍၊-လာဗန်၏မျက်နှာကိုကြည့်
သောအခါ၊ရှေ့ကကဲ့သို့မထုတ်၊ ခြားနားသည်
၃ ကိုထိမြင်၏။- သာ၀ရဘုရားကလည်း၊ သင်၏
ဘိုးဘ နေသောပြည်၊ သင်၏အမျိုးသားချင်းထံ
သို့ ပြန်သွားလော့။ ငါသည်သင့်ထက်၌ ရှိမည်
မည်ဟု၊ယာကုပ်အားမိန့်တော်မူ၏။- ယာကုပ်
သည်လူကိုစေလွှတ်၍၊ရာခေလနှင့်လေအာကို၊
၄ ထိုနေ့ရှိရာတောသို့ခေါ်ပြီးလျှင်၊-သင်တို့အဘ၏
မျက်နှာသည်ငါ၌ရှေ့ကကဲ့သို့မထုတ်၊ ခြားနား
သည်ကိုငါသိမြင်၏၊ထိုသော်လည်း၊ငအဘ၏ဘု
၅ ရားသခင်သည်၊ငထက်၌ရှိတော်မူ၏။- သင်တို့
အဘ၏ အမှုကို၊ ငါတတ်နိုင်သမျှအတိုင်း၊ ငါ
၆ ဆောင့်သည်ကို သင်တို့သိကြ၏။- သင်တို့အဘ
သည်လည်းငါ့ကိုလှည့်စား၍၊ ငါရထိုက်သော
အခကို ဆယ်ကြိမ်လဲလှဲပြီ၊ ဘိုးသော်လည်း၊ င
ကိုညှဉ်းဆဲစေခြင်းငှါ၊ ဘုရားသခင်အခွင့်ပေး
၈ တော်မမူ။- သူက၊ ပြောက်သော အကောင်တို့
သည်၊သင်၏အခဖြစ်စေဟု ဆိုလျှင်၊ သိုး၊ ဆိတ်
ရှိသမျှတို့သည်၊ ပြောက်သော အကောင်တို့ကို
ဘွားကြ၏။ ကျားသောအကောင်တို့သည်၊သင်၏
အခဖြစ်စေဟု ဆိုလျှင်၊သိုး၊ဆိတ်ရှိသမျှတို့သည်
၉ ကျားသောအကောင်တို့ကိုဘွားကြ၏။-ထိုသို့ဘု
ရားသခင်သည်၊ သင်တို့အဘ၏တိရိစ္ဆာန်တို့ကို
၁၀ နှုတ်၍ငအားပေးတော်မူပြီ။-ထိုတိရိစ္ဆာန်များ
တို့သည်၊ရှုတ်တင်ကြသောအခါ၊ ငါမျှော်ကြည့်
၍၊ တိရိစ္ဆာန် မ ထို နှင့် ပေါင်း ဖော် သော တိ
ရိစ္ဆာန်အထီးတို့သည်၊အပြောက်အကျားမှစ၍၊
အထွေထွေသောအဆင်းရှိကြောင်းကို အိပ်မက်၌
၁၁ ငါမြင်ရ၏။- ဘုရားသခင်၏ ကောင်းကင်တမန်
ကလည်း၊ယာကုပ်ဟု၊ အိပ်မက်၌ငကိုခေါ်လျှင်၊
၁၂ အကျွန်ုပ်ရှိပါ၏ဟုငါထူး၏။- သူကလည်း၊မျှော်
၍ကြည့်လော့၊တိရိစ္ဆာန်မနှင့်ပေါင်း၊ဖော်သော
တိရိစ္ဆာန်အထီးရှိသမျှတို့သည်၊ အပြောက်အ
ကျားမှစ၍၊ အထွေထွေသောအဆင်း ရှိကြ၏၊
အကြောင်းမူကား၊ သင်၌လာဗန်ပြုသမျှတို့ကို
၁၃ ငါမြင်၏။- ငါကား၊ သင်သည် မှတ်တိုင်ကို ဆီ
လောင်း၍၊ ငါ၌သစ္စာပြုရာ၊ ဗေသလအရပ်၏
ဘုရားဖြစ်၏၊ယခုထ၍၊ဤအရပ်မှထွက်သဖြင့်၊
ဘွားမြင်းသား ချင်းတို့ နေသော ပြည်သို့ ပြန်သွား
လော့ဟုငအားမိန့်တော်မူ၏ဟု၊ ယာကုပ်သည်
၁၄ ကြား၊ပြောပြီးလျှင်၊- ရာခေလနှင့် လေအာတို့
က၊ အကျွန်ုပ်တို့သည် ကိုယ်အဘ၏ အိမ်နှင့်အ
ထထိသို့ဆိုင် သနည်း။ အထယ်သို့ အမွေ ခံရ
၁၅ သေးသနည်း။- သူသည်ကျွန်ုပ်တို့ကို တကျွန်း
တနိုင်ငံသားကဲ့သို့မှတ်တတ်သည်မထုတ်လော။
၁၆ ကျွန်ုပ်တို့ကိုရောင်းစားခဲ့ပြီတကား။- ကျွန်ုပ်တို့
အဘမှ ဘုရားသခင်နှုတ်ထိမ်းတော်မူသော စည်း
စိမ်ရှိသမျှသည်၊ငါတို့ဥစ္စာ၊ ငါတို့သားသမီးများ
ဥစ္စာဖြစ်၏၊သို့ဖြစ်၍၊ဘုရားသခင်မှာထားတော်
မူသည်အတိုင်း၊ယခုတွင်ပြုပါလော့ဟုပြန်ပြော
ကြ၏။
၁၇ ထိုအခါယာကုပ်သည်ထ၍၊ မိမိသားမယား
၁၈ တို့ ကို ကု လား အုတ် ပေါ်မှာ စီး စေ ၏။- မိမိ
တိရိစ္ဆာန် တည်းဟူသော၊ ပါဒနာရံ အရပ်၌ ရ
သောတိရိစ္ဆာန်ရှိသမျှတို့နှင့်၊ ရတတ်သမျှသော
ဥစ္စာတို့ကို ဆောင်ယူ၍၊ အဘဣဇာက်နေရာခါ

၁၉ နာခ်ဖြည်သို့ ခရီးသွား၏ ထေ၏။- လာဗန်သည်
သိုးမွေးကိုညှပ်ခြင်းငှါ၊ အခြားတပါးသို့ သွား
ခိုက်တွင်၊ရာခေလသည်၊ သူ၏တေရပ်ရုပ်တုတို့
ကို ခိုးယူထေ၏။- ယာကုပ်သည် မိမိပြေးမည်
အကြောင်းကို မကြား မပြောဘဲ နေ၍၊ ရှုရိလူ
ဖြစ်သော လာဗန်ကို ပရိယာယ် အားဖြင့် နိုင်
၂၀ ထေ၏။- ထိုသို့ မိမိဥစ္စာ ရှိသမျှ ပါလျက် ပြေး
သွား၍၊ မြစ်တဖက်သို့ အလျင် အမြန် ကူးပြီး
လျှင်၊ ဂိလဒ်တောင်ကိုရှေ့ရှုပြုလျက် ခရီးသွား
ထေ၏။

၂၂ ယာကုပ် ပြေးကြောင်းကို၊ သုံးရက် မြောက်
၂၃ သောနေ့၌လာဗန်ကြားသိလျှင်၊- ညီအစ်ကိုတို့
ကိုခေါ်၍၊ ခုနစ်ရက် ခရီးလိုက်သဖြင့်၊ ဂိလဒ်
၂၄ တောင်ပေါ်မှာမှီထေ၏။-ဘုရားသခင်သည်ရှုရိ
လူလာဗန်ဆီသို့ညည့်အချိန်တွင်အိပ်မက်၌ ကြွ
တော်မူ၍၊ သင်သည်ယာကုပ်အား ကောင်းမ
ကောင်းကိုမပြောနှင့်၊သတိပြုလော့ဟုမိန့်တော်
၂၅ မူ၏။- ထိုအခါ ယာကုပ်သည် မိမိတဲကိုဂိလဒ်
တောင်ပေါ်မှာ ဆောက်နှင့်ပြီး လာ ဗန် သည်
လိုက်၍မှီသောအခါ၊မိမိညီအစ်ကိုတို့နှင့်တကွ၊
၂၆ ထိုတောင်ပေါ်မှာ တဲကို ဆောက်ထေ၏။- လာ
ဗန်ကလည်း၊သင်သည်အဘယ်သို့ပြုသနည်း၊
စစ်တိုက်ရာ၌ ဖမ်းမိသော သူတို့ကို သိမ်းသွား
သကဲ့သို့၊ ငါ့ကိုလှည့်စား၍၊ သမီးတို့ကို သိမ်း
၂၇ သွားသေပြီတကား။-ငါ့ကိုလှည့်စား၍၊အဘယ်
ကြောင့် တိတ်ဆိတ်စွာ ထွက်ပြေး သနည်း။ ငါ
သည်ပျော်မွေ့ခြင်းကိုပြု၍ သီချင်းဆိုလျက်၊ပတ်
သာနှင့် စောင်းတီးလျက်၊ သင့်ကို လွှတ်လိုက်
စေခြင်းငှါ၊ အဘယ်ကြောင့်ငါ့ကိုမကြားမပြော
၂၈ ဘဲနေသနည်း။- သားသမီးတို့ကိုငါနမ်းစေခြင်း
ငှါ၊ အဘယ်ကြောင့် အခွင့်မပေးသနည်း။ သင်
၂၉ သည်မိုက်စွာပြု လေပြီ တကား။- ယခုသင့်ကို
ငါညှဉ်းဆဲနိုင်၏၊ သို့သော်လည်း၊မနေ့ညမှာ
သင်၏အဘကိုးကွယ်သောဘုရားသခင်သည်ကြွ
လာ၍၊ ယာကုပ်အား ကောင်း မကောင်းကိုမ
ပြောနှင့်၊ သတိပြုလော့ဟု ငါ့အား မိန့်တော်မူ
၃၀ ၏။- ယခုမှာ၊ သင်သည် မိဘ အိမ် ကိုအလွန်
တောင့်တသောကြောင့်၊သွားရသည်ဟုတ်စေ
တော့၊ငါ၏ဘုရားတို့ကိုအဘယ်ကြောင့်ခိုးယူခဲ့
၃၁ ရသနည်းဟု ယာကုပ်ကို ဆို၏။- ယာကုပ်က
လည်း၊ သင်သည်ကိုယ်သမီးတို့ကို အနိုင်သိမ်း
ယူကောင်း သိမ်းယူလိမ့်မည်ဟု၍၊ ကျွန်ုပ်ကြောက်ရွံ့သော
၃၂ သောကြောင့် ထွက်ပြေးရ၏။- သင်၏ဘုရားတို့
ကိုမူကား၊ အကြင်သူ၌ တွေ့လျှင်၊ ထိုသူကိုအသေ
ခံစေတော့၊ကျွန်ုပ်တို့ညီအစ်ကိုများရှေ့တွင်၊သင်
၏ဥစ္စာကိုပြည့်စုံ၍ယူပါလော့ဟု၊လာဗန်အား
ပြန်ပြော၏။ ရာခေလ ခိုးကြောင်းကို ယာကုပ်
၃၃ မသိ။- လာဗန်သည်ယာကုပ်တဲ၊ လေအာတဲ၊
ကျွန်မ နှစ်ယောက်တို့၏ တဲ သို့ဝင်၍ ရှာသော်
လည်းမတွေ့လျှင်၊ လေအာတဲထဲမှထွက်၍၊ ရာ
၃၄ ခေလတဲသို့ဝင်ထေ၏။-ရာခေလသည်၊ထိုရုပ်တု
တို့ကိုယူ၍ ကုလားအုတ်ကုန်းနှီး တန်ဆာထဲ
သို့သွင်းထားပြီးလျှင်၊ ထိုတန်ဆာ ပေါ်မှာ ထိုင်
လျက်နေ၏။ လာဗန်သည်တတဲလုံးကိုရှာဖွေ၍
၃၅ မတွေ့လျှင်၊-ရာခေလက၊ စခင်ရှေ့မှာ ကျွန်မ မ
ထနိုင်သည်ဖြစ်၍၊စိတ်ရှိတော်မမူပါနှင့်။မိန်းမတို့
၌ ဖြစ်မြဲရှိသည်အတိုင်း၊ ကျွန်မ၌ ဖြစ်ပါသည်
ဟု၊အဘအားဆိုထေ၏။ ထိုသို့လာဗန်သည် ရှာ
ဖွေ၍ရုပ်တုတို့ကိုမတွေ့ရ။
၃၆ ထိုအခါယာကုပ်သည် စိတ်ဆိုး၍လာဗန်ကို
ဆုံးမသည်ကား၊ ကျွန်ုပ်သည် အဘယ်သို့ ဖြစ်
မှား၍၊ အဘယ်အပြစ်ရှိသောကြောင့်၊ ကျွန်ုပ်
ကိုဤမျှလောက်ပြင်းထန်စွာ လိုက်ရသနည်း။-
၃၇ ကျွန်ုပ်ဥစ္စာရှိသမျှကိုရှာဖွေသည်ဖြစ်၍၊သင်၏
ဥစ္စာ ပရိက္ခရာတစုံတခုကို တွေ့မိလျှင်၊ သင်၏ညီ
အစ်ကို၊ကျွန်ုပ်ညီအစ်ကိုတို့ရှေ့တွင်၊ ဤအရပ်၌
ထားပါ၊သူတို့သည်၊ငါတို့နှစ်ယောက်စပ်ကြား
၃၈ မှာစီရင်ပါစေ။-ကျွန်ုပ်သည်သင့်ထံ၌အနှစ်နှစ်
ဆယ်ပတ်လုံး နေရာတွင်၊ သင်၏သိုးမ၊ ဆိတ်မ
တို့သည်ဝမ်းပိုးမပျက်၊ ဆိတ်ထီး၊သိုးထီးတို့ကို
၃၉ ကျွန်ုပ်မစား။ သားရဲကိုက်သတ်သောအကောင်
ကိုသင့်ထံသို့ကျွန်ုပ်မဆောင်ခဲ့၊ ကိုယ်အရှုံးခံရ
၏။နေ့မှာခိုးသည်ဖြစ်စေ၊ ညမှာခိုးသည်ဖြစ်စေ၊
သင်သည်ကျွန်ုပ်၌ အစားတောင်းလေ့ရှိ၏။-
၄၀ နေ့အချိန် ၌လည်း နေပူကိုငင်၊ ညည့်အချိန်၌
လည်းနှင်းခဲကိုငင်ခံရပြီ၊ အအိပ်ပျက်ခြင်းကို
၄၁ လည်းခံရပြီ။- ထိုသို့ ကျွန်ုပ်သည် အနှစ် နှစ်
ဆယ်ပတ်လုံးသင်၏အိမ်၌နေ၍၊ သင်၏သမီးနှစ်
ယောက် အတွက်ကြောင့် ဆယ်လေးနှစ်၊ သိုး
ဆိတ်တို့ အတွက်ကြောင့် ခြောက်နှစ်အစေခံရ
ပြီ။ သို့ရာတွင် သင်သည်၊ ကျွန်ုပ်အခကိုဆယ်
၄၂ ကြိမ်လဲပြီတကား။-ယခုသည်းကျွန်ုပ်အဘ၏ဘု
ရားသခင်၊ အာဗြဟံ၏ဘုရားသခင်၊ ဣဇာက်၏
ကြောက်ရွံ့ရာ ဘုရားသည်၊ ကျွန်ုပ်ထက်၌မရှိ

လျှင်၊ ထင်သည့် ကျွန်ုပ်ကို အကန်အဓမ္မ ထုတ်
လွှတ်လိုက်ထိမ့်မည်တကား။ အကောတ်ခံ
ခံကျွန်ုပ်ဆင်းရဲခံရခြင်း၊ ပင်ပန်းစွာလုပ်ကိုင်
ရခြင်း၊ကိုဘုရားသခင်မြင်၍၊ မနေ့ညမှာသင့်ကို
၄၃ ဆုံးမတော်မူပြီဟုဆိုလေ၏။– လာဗန်ကလည်း၊
ဤသမီး ထိုသည် ငါ့သမီး ဖြစ်ကြ၏၊ ဤသူငယ် ထို
သည်၊ ငါ့သား ဖြစ်ကြ၏၊ ဤတိရစ္ဆာန်တို့သည်၊
ငါ့တိရစ္ဆာန် ဖြစ်ကြ၏။မြင်သမျှသောဥစ္စာသည်
ငါ့ဥစ္စာဖြစ်၏၊ ငါ့သမီးတို့၌၎င်း၊သူတို့ဖွားမြင်သော
သူငယ်တို့၌၎င်း၊အဘယ်သို့ငါပြုနိုင်သနည်း။–
၄၄ ထိုဖြစ်၍၊ ငါနှင့်သင်နှင့်စပ် ကြား၌သက်သေ
ဖြစ်စေ၍၊ ငါတို့ နှစ်ယောက် သည် ပဋိညာဉ်
၄၅ ပြုကြစို့ဟု၊ လာဗန်အား ပြန် ပြော ၏။– ယာ
ကုပ်သည်ကျောက်ကိုယူ၍၊ မှတ်တိုင်အဖို့
၄၆ စိုက်ထူပြီးလျှင်၊–ကျောက်များကို စုထားကြပါ
ဟု၊ ညီအစ်ကိုတို့အားဆိုသည်အတိုင်း၊ သူတို့
သည်ကျောက်များကိုယူ၍၊ကျောက်ပုံကိုတည်
ထုပ်ပြီးမှ၊ ထိုကျောက်ပုံအပေါ်၌စားသောက်
၄၇ ခြင်း၊ကိုပြုကြ၏။–ထိုကျောက်ပုံကိုလာဗန်သည်
ယေဂါသဟာဒုသ ဟူ၍၎င်း၊ ယာကုပ်သည်ဂိ
၄၈ လက်ဟူ၍၎င်းသမုတ်လေ၏။– လာဗန်ကလည်း၊
ယနေ့ဤကျောက်ပုံသည် ငါနှင့်သင်၏စပ်ကြား
၌သက်သေဖြစ်သည်ဟုဆို၏။ ထိုကြောင့်ဂိလက်
၄၉ ဟူ၍ သမုတ် ကြ၏။– မိဇပါ ဟူ၍ သမုတ်ကြ
သေး၏၊ အကြောင်းမူကား၊ လာဗန်က၊ ငါတို့
သည် တယောက်နှင့် တယောက် ခွာသွား ကြ
သောနောက်၊ ထာဝရဘုရားသည်ငါနှင့်သင်၏
၅၀ စပ်ကြား၌ စောင့်တော် မူစေ သတည်း။– သင်
သည် ငါ့သမီးတို့ကိုညှဉ်းဆဲသည်ဖြစ်စေ၊ ငါ့သမီး
တို့မှတပါး အခြားသောမိန်းမနှင့် စုံဖက်သည်ဖြစ်
စေ၊ငါတို့၌ထိုသက်သေမရှိ၊ ဘုရားသခင်သည်
ငါနှင့်သင်၏ စပ်ကြား၌ သက်သေ ဖြစ်တော်မူ
၅၁ စေသတည်းဟူ၍၎င်း၊– တဖန်လည်း၊ငါနှင့်သင်
၏ စပ်ကြား၌ ငါသည် တည်ထုပ် ခဲ့ပြီး သော
ဤကျောက်ပုံနှင့်ဤမှတ်တိုင်ကို ကြည့်ပါလော့။–
၅၂ ငါသည်သင့်ကိုမိုက်ရန်ပြုခြင်းငှါ၊ ဤကျောက်
ပုံ၊ဤမှတ်တိုင်ကိုမကျော်ရ၊သင်သည်ငါ့ကိုမိုက်
ရန်ပြုခြင်းငှါ၊ ဤကျောက်ပုံ၊ ဤမှတ်တိုင်ကို မ
ကျော်ရဟု၊ ဤကျောက်ပုံနှင့် ဤမှတ်တိုင်သည်
၅၃ သက်သေဖြစ်စေသတည်း။–အာဗြဟံ၏ဘုရား
သခင်၊နာခေါ်၏ဘုရားသခင်၊ သင့်အဘ၏ဘုရား
သခင်သည်၊ငါတို့စပ်ကြား၌စီရင်တော်မူစေသ
တည်းဟူ၍ရင်း၊ ယာကုပ်အားဆို၏။ ယာကုပ်
သည်လည်း၊ မိမိအဘ ဣဇာက်ကိုးကွယ်ရာ ဘုရားကို
၅၄ တိုင်တည်၍၊ကျိန်ဆိုခြင်းကိုပြုလေ၏။–ထိုအခါ
ယာကုပ်သည် တောင်ပေါ်မှာ ယဇ်ပူဇော်၍၊
ညီအစ်ကိုများကိုအစားအစာစားခြင်းငှါ ခေါ်ဖိတ်
သဖြင့်၊ သူတို့သည်စားသောက်၍၊ တောင်ပေါ်
၅၅ မှာညဥ့်ကိုလွန်စေကြ၏။– နံနက်စောစောထ
မှတဲ့၍ မိမိသားသမီးများကိုနမ်းလျှက်ကောင်း
ကြီးပေးပြီးမှ၊ မိမိနေရာပြည်သို့ပြန်သွားလေ၏၊

၃၂

၁ ယာကုပ်သည် ခရီးသွားပြန်၍၊ ဘုရားသခင်
၏ကောင်းကင်တမန်တို့သည် ကြိုဆိုခြင်းငှါလာ
၂ ကြသည်ကို၊– ယာကုပ်မြင်လျှင်ဘုရားသခင်၏
တပ်တော်ဖြစ်သည်ဟုဆို၍၊ ထိုအရပ်ကိုမဟာ
နိမ်အမည်ဖြင့်မှည့်လေ၏။
၃ ထိုအခါယာကုပ်သည်၊ အစ်ကိုဧသောနေရာ
ဧဒုံပြည်တည်းဟူသောစိရပြည်သို့၊တမန်တို့ကို
မိမိ ရှေ့မှာ စေ လွှတ်၍ မှာလိုက်သည်ကား၊–
၄ ကိုယ်တော်၏ကျွန်ယာကုပ်က၊ကျွန်တော်သည်
လာဗန် ထံမှာ တည်းခို၍၊ ယခုတိုင်အောင် နေ
၅ ပါပြီ၊– ကျွန်တော်၌နွား၊ မြည်း၊ သိုး၊ ဆိတ်၊ ကျွန်
ယောက်ျားမိန်းမများရှိကြပါ၏၊ ကျွန်တော်သည်
သခင်၏မိတ်တော်နှင့်တွေ့စေခြင်းငှါ၊ လျှောက်
ကြား လိုက် ပါ သည် ဟု၊ ငါ့ သခင် ဧသော ကို
၆ လျှောက်ကြဟုမှာလိုက်လေ၏။–တမန်တို့ထပ်၍
ယာကုပ်ထံသို့ပြန်လာ၍၊ ကျွန်တော် တို့သည်၊
ကိုယ်တော်၏အစ်ကို ဧသောထံသို့ ရောက်ခဲ့ပါ
ပြီ၊သူသည်ကိုယ်တော်ကိုတွေ့ခြင်းငှါ၊ လူလေး
၇ ရာနှင့်ရှိလာပါသည်ဟုလျှောက်ကြ၏။– ထိုအ
ခါယာကုပ်သည်၊ အလွန်ကြောက်၍မိတ်ပူပန်
လျှင်၊ မိမိတွင်ပါသောလူစု၊ သိုးဆိတ်စု၊နွားစု၊
ကုလားအုတ်များတို့ကိုနှစ်စုခွဲ၍ ထား လေ၏–
၈ အကြောင်းမူကား၊ တစုကို ဧသောတွေ့၍ လုပ်
ကြံလျှင်၊ ကြွင်းသော တစု လွတ်လိမ့် မည် ဟု
ဆို၏။
၉ တဖန်ယာကုပ်က၊ အကျွန်ုပ်အဘ အာဗြဟံ၏
ဘုရားသခင်၊အကျွန်ုပ်အဘဣဇာက်၏ဘုရားသ
ခင်၊ ထာဝရဘုရား၊ ကိုယ်တော်က၊ သင်၏ပြည်၊
သင်၏ အမျိုး သားချင်းတို့ ထံသို့ပြန်လော့၊ ငါ
သည်သင့်၌ကျေးဇူးပြုမည်ဟုမိန့်တော်မူပါပြီ။–
၁၀ ကိုယ် တော် ကျွန်၌ ပြတော် မူသော ကရုဏာ
သစ္စာတော်အပေါင်းဆုံးကို ခံ အကျွန်ုပ်မခံထိုက်

ပါ၊ အကျွန်ုပ်သည်အထက်က၊ ဤယော်ဒန်မြစ်
ကို ထောက်ခွဲတောင်ဝေးနှင့်သာ ကူးပါ၏။ ယခုမူ
၁၁ ကား၊ အပေါင်းအသင်းနှစ်စုဖြစ်ပါ၏။— ထိုဖြစ်
၍၊ အကျွန်ုပ်ကို အစ်ကိုဧသောထက်မှ ကယ်
တွတ်တော်မူမည်အကြောင်း ဆုတောင်းပါ၏။
သူသည်လာ၍အကျွန်ုပ်ကိုငှင်၊ သားမယားတို့
၁၂ ကိုငှင်၊သတ်မည်ဟုအထွန်မိုးရိမ်ပါ၏။—ကိုယ်
တော်က၊ ငါသည်သင်၌အမှန်ကျေးဇူးပြု၍၊ မ
ရေတွက်နိုင်အောင် များပြားသော သမုဒ္ဒရာသဲ
ထုံးနှင့်အမျှ၊ သင်၏အမျိုးအနွယ်ကိုငါဖြစ်စေ
မည်ဟု၊ မိန့်တော်မူပါပြီဟု တောင်းလျှောက်
လေ၏။
၁၃ ထိုအရပ်၌တညည့်ပတ်လုံးနေပြီးမှ၊မိမိလက်
၌ဥစ္စာစုထဲကအစ်ကိုဧသောအားထက်ဆောင်
၁၄ သတ် စရာဘို၊— ဆိတ်မ နှစ်ရာ၊ ဆိတ်ထီး နှစ်
၁၅ ဆယ်၊သိုးမနှစ်ရာ၊သိုးထီးနှစ်ဆယ်၊— နို့မှိသား
ငယ်နှင့်တကွ၊နို့ညှစ်ကုလားအုတ်မသုံးဆယ်၊
နွားမ လေးဆယ်၊ နွားထီး တဆယ်၊ မြည်းမ နှစ်
၁၆ ဆယ်နှင့်မြည်းကလေးတဆယ်တို့ကိုယူ၍၊—အသီး
အသီးတစုတခြားစီခွဲသန့်လျက်၊ ကျွန်တို့ထက်
သို့အပ်ပြီးလျှင်၊ သင်တို့သည်ငါ့ရှေ့မှာကူးသွား
၍၊တစုနှင့်တစုကိုခရီးကွာစေလော့ဟု၊ကျွန်တို့
၁၇ အား မှာထားလေ၏။— ရှေ့ဦးစွာသွားသော သူ
ကိုလည်း၊ ငါ့အစ်ကိုဧသောသည် သင့်ကိုတွေ့၍၊
သင်ကား၊ အဘယ်သူ၏လူဖြစ်သနည်း။ အဘယ်
အရပ်သို့ သွားသနည်း။ သင့်ရှေ့မှာရှိသော တိ
ရိစ္ဆာန်များကား၊ အဘယ်သူ၏ဥစ္စာဖြစ်သနည်း
၁၈ ဟုမေးလျှင်၊— ကိုယ်တော်ကျွန်ယာကုပ်၏ဥစ္စာ
ဖြစ်ပါ၏။သခင်ဧသောအားဆက်သလိုက်သော
လက်ဆောင် ဖြစ်ပါ၏။ သူသည်လည်း နောက်
မှာရှိပါ၏ဟု၊ လျှောက်ရ မည်ဟု မှာထား လေ
၁၉ ၏။—ထိုနည်းတူ၊ဒုတိယသူ၊တတိယသူမှစ၍၊ အ
စုစုတို့နှင့် လိုက်သော သူ အပေါင်း ကိုလည်း၊
သင်တို့သည် ဧသောနှင့်တွေ့လျှင်၊ဤသို့လျှောက်
၂၀ ရမည်ဟူ၍ငှင်၊—ကိုယ်တော်ကျွန်ယာကုပ်သည်
လည်း နောက်မှာ ရှိပါ၏ဟု၊ ကြားလျှောက် ရ
မည်ဟူ၍ငှင်မှာထားလေ၏။ယာကုပ်က၊ယခုင
ရှေ့တွင်ထွက်သွားသောလက်ဆောင်ဖြင့်၊ သူ၏
မိတ်ကိုငါဖြေမည်၊ နောက်မှ မျက်နှာချင်း ဆိုင်
တွေ့ သော အခါ၊ ငါ့ကို လက်ခံ ကောင်း လက်ခံ
၂၁ လိမ့်မည်ဟုအကြံရှိသတည်း။— ထိုသို့ယာကုပ်
ရှေ့မှာလက်ဆောင်သည်အရင်ကူးသွား၍၊ သူ
ကိုယ်တိုင် ထိုညည့်၌ ထု အစု အဝေးနှင့် အတူ
၂၂ အိပ်၍ နေ၏။— ညည့် မကုန်မှီ ထ၍ မယား နှစ်
ယောက်၊ကျွန်မနှစ်ယောက်၊ သားတဆယ်နှင့်
တယောက်တို့ကို ဆောင်ယူ၍၊ ယဗ္ဗုတ်ချောင်း
ရေတိမ်ရာအရပ်ကိုကူးလေ၏။
၂၃ ထိုသို့သူတို့ကိုယူ၍ မိမိဥစ္စာ ရှိသမျှနှင့် တကွ
၂၄ ချောင်းတဖက်သို့ကူးစေပြီးမှ၊— ယာကုပ်သည်
တယောက်တည်းနေရစ်၍၊ လူတဦးသည်မိုးသိုး
လင်းသည် တိုင်အောင်သူနှင့်လုံးထွေးလေ၏။—
၂၅ ထို သူသည် မိမိ မနိုင်မှန်းကိုသိလျှင်၊ ယာကုပ်
ပေါင်ချုန်ကိုထိုး၍၊ လုံးထွေးစဉ်တွင်ပေါင်ဆစ်
၂၆ ပြုတ် လေ၏။— ထိုသူက ထည်း၊ ငါ့ကို လွှတ်ပါ၊
မိုးသိုးထင်းဆဲ ရှိပြီဟု ဆိုလျှင်၊ ယာကုပ် က၊
ကိုယ်တော်သည်အကျွန်ုပ်ကိုကောင်းကြီးမပေး
၂၇ လျှင်၊မသွားရဟုဆို၏၊—ထိုသူကထည်း၊ သင်၏
အမည်ကား အဘယ်သို့နည်းဟုမေးလျှင်၊ ယာ
၂၈ ကုပ်ဖြစ်ပါသည်ဟုပြန်ဆို၏၊— နောင်၌သင်၏အ
မည်ကို ယာကုပ်ဟူ၍ မခေါ်ရ၊ ဣသရေလဟူ
၍ ခေါ်ရမည်၊ အကြောင်းမူကား၊ သင်သည်
ဘုရားသခင်နှင့်ငှင်၊ လူနှင့်ငှင်၊ မင်းကဲ့သို့ပြိုင်၍
၂၉ နိုင်ပြီဟုမိန့်တော်မူ၏၊—ယာကုပ်ကထည်း၊
နာမတော်ကားအဘယ်သို့နည်း၊ အကျွန်ုပ်အား
လော်ပြတော်မူပါဟု မေးလျှောက်လျှင်၊ နာမ
ကို အဘယ်ကြောင့် မေး သနည်း ဟု ဆို၍၊ ထို
၃၀ အရပ်၌ကောင်းကြီး ပေးတော်မူ၏၊— ထိုအရပ်
ကိုပေနွေလဟူ၍၊ ယာကုပ်သည်အမှတ် ထေ
၏၊ အကြောင်းမူကား၊ ငါသည်ဘုရားသခင်ကို
မျက်နှာ ချင်းဆိုင်၍ ဖူးမြင် ရသော် ထည်း၊ အ
၃၁ သက်ချမ်းသာ ပြီဟု ဆိုသတည်း။— ပေနွေလ
အရပ်ကို ယာကုပ် လွန်သွား သော အခါ၊ နေ
၃၂ ထွက်မိုန်ရှိ၍၊သူသည်ထော့နဲ့သွားလေ၏၊—ထို
သို့ ယာကုပ်၏ ပေါင်ချုန် အကြော ကြီး ကို ထိုး
တော်မူသောကြောင့်၊ ဣသရေလအမျိုးသားတို့
သည်၊ ပေါင်ချုန်၌ ရှိသော အကြောကြီးကို ယ
နေ့တိုင်အောင် မစားရှောင်လေ့ရှိကြ၏၊

၃၃

၁ ထိုအခါယာကုပ်သည်မျှော်ကြည့်၍၊အစ်ကို
ဧသောသည်လူလေးရာပါလျက် ရှိထသည်ကို
မြင်လျှင်၊လေအာ၊ရာခေလ၊ကျွန်မနှစ်ယောက်
၂ တို့တွင်၊ သားများတို့ကိုခွဲဝေလေ၏။— ကျွန်မ
နှစ်ယောက်ကိုကား၊ သူတို့သားများနှင့် ရှေ့က
နေစေ၍၊ လေအာနှင့်သူ၏သားတို့ကိုအလယ်၌



 

ငိုကြွေးလေသောနှင့်သောသောတိုရောက်၍ ငင်ထား
၄ သော၏– ထိုသို့ရွှေမှာကိုယ်ထိုင်လွန်သွား၍၊ ခု
နစ်ကြိမ်တိုင်အောင်ဦးညွှတ်ပြပ်ဝပ်လျှက်၊အစ်
ကိုအနီးသို့ ချဉ်းကပ်လေ၏။– ထိုအခါဧသော
သည်ကြို ဆိုခြင်းငှါပြေးလာ၍၊ လည်ချင်းရှုတ်
လျှက်၊ ပိုက်ဖက် နမ်း ရှုပ် ခြင်းကို ပြု၍၊ နှစ်
၅ ယောက်စလုံးတို့သည်ငိုကြွေးကြ၏။–ထိုနောက်၊
မျှော်ကြည့်၍၊မိန်းမများ၊ သူငယ်များကိုမြင်လျှင်၊
သင်၌ပါသော ဤသူတို့သည်၊ အဘယ်သူနည်း
ဟုမေးသော်၊ ကိုယ်တော်၏ကျွန်အား ဘုရား
သခင်ပေးသနားတော်မူသောသူငယ် ဖြစ်ကြပါ
၆ ၏ဟု ပြန်ပြောပြီးမှ၊– ကျွန်မတို့သည်၊ မိမိတို့
၇ သားများနှင့် ချဉ်းကပ်၍ ဦးညွှတ်ကြ၏– ထို
နောက်၊ လေအာသည်သူ၏သားများနှင့် ချဉ်း
ကပ်၍၊ ဦးညွှတ်ကြ၏၊ ထိုနောက်၊ ယောသပ်
နှင့်ရာခေလသည် ချဉ်းကပ်၍ ဦးညွှတ် ခြင်းကို
၈ ပြုကြ၏–ဧသောကလည်း၊ကျွန်ုပ်တွေ့သော တိ
ရိစ္ဆာန်စုအပေါင်းတို့သည်၊အဘယ်သို့သောအ
ရာနည်းဟုမေးလျှင်၊ သခင်၏မျက်တော်နှင့် တွေ့
စေခြင်းငှါ ဖြစ်ပါသည်ဟုပြန်ပြော၏– ဧသော
ကလည်း၊ ငညီ၊ ငါ၌ လုံလောက် အောင်ရှိ၏၊
၁၀ သင်၏ဥစ္စာထိုကိုယူထားဦးလော့ဟုဆို၏–ယာ
ကုပ်ကလည်း၊ထိုသို့ မဆို ပါနှင့်၊ မျက်တော်နှင့်
တွေ့သည်မှန်လျှင်၊ ကျွန်တော်ဆက်သောလက်
ဆောင်ကို ခံယူတော်မူပါ၊ ဘုရားသခင်၏ မျက်
နှာတော်ကို ဖူးမြင် ရသကဲ့သို့၊ ကိုယ်တော်၏
မျက်နှာကိုဖူးမြင်ရပါ၏၊မိတ်ဆွေတော်သည်လည်း
၁၁ နှုတ်ဆက်ပါ၏။– ကိုယ်တော်ထံသို့ရောက်သော
ကျွန်တော်၏ မင်္ဂလာကို ခံယူတော်မူပါ၊ ဘုရား
သခင် သည်၊ ကျွန်တော်၌ ရှားရှားသော ကျေး
ဇူးကို ပြုတော်မူပြီ၊ ကျွန် တော်၌ လုံ လောက်
အောင်ရှိပါ၏ဟူ၍၊ တိုက်တွန်း သော့ကြောင့်
ခံယူလေ၏။
၁၂ ဧသောကလည်း၊ခရီးသွားကြစို့၊သင့်ရှေ့မှာ
၁၃ ကျွန်ုပ်သွားမည်ဟုဆိုလျှင်၊–ယာကုပ်က၊သခင်
သိသည်အတိုင်း၊ဤသူငယ်တို့သည်နုငယ်ပါ၏၊
သားငယ် ပါသောသိုး၊ ဆိတ်၊ နွားမတို့သည်
ကျွန်တော်၌ပါပါ၏၊ တနေ့ချင်းတွင် အနှင်လွန်
၁၄ လျှင်၊ ရှိသမျှတို့သည်သေကြပါလိမ့်မည်။– ထို
ကြောင့်သခင်သည်၊ ကိုယ်တော်၏ ကျွန်ရှေ့မှာ
ကြွနှင့်တော်မူပါ၊ ကျွန်တော်မူကား၊ ကျွန်တော်
ရှေ့သွားသော တိရိစ္ဆာန်များ၊ သူငယ် များ၊
သက်နိုင်သမျှအတိုင်း၊ သခင်ရှေရာ မိရှမြည်သို့
ရောက်အောင်၊ တဖြည်းဖြည်းလိုက်ဆောင်ပါမည်
၁၅ ဟု လျှောက်လေ၏။– ဧသောကလည်း၊ ထိုမြို့
လျှင်ကျွန်ုပ်၌ပါသောသူအချို့ကိုငါ့ထံ၌ ထားခဲ့
ပါရ စေဟုဆိုလျှင်၊ ယာကုပ်က၊ အဘယ် အ
ကြောင်း ရှိပါသနည်း၊ သခင်၏ မျက်တော် နှင့်
၁၆ တွေ့ပါစေဟုပြန်ဆိုသော်၊– ဧသောသည်ထိုနေ့
ချင်းတွင်မိရှမြည်သို့ခရီးသွား၍ပြန်လေ၏။
၁၇ ယာကုပ်လည်း၊ သုကုတ်အရပ်သို့ ခရီးသွား
၍၊ ကိုယ် နေဖို့ အိမ်ကိုဆောက်၍၊ တိရိစ္ဆာန်များနေ
ဖို့ တင်း ကုပ် တို့ ကို ဆောက်၍၊ ဆောက်လေ၏၊ ထို
ကြောင့်ထိုအရပ်ကို၊ သုကုတ်ဟူ၍ ခေါ်သေသ
တည်း။
၁၈ ထိုနောက်မှ၊ ရှေခင်မြို့သို့ ဘေးမဲ့ရောက်လေ
၏၊ ပါဒနာရံပြည်မှ ပြန်လာ၍၊ ခါနာန်ပြည်သို့
ရောက်သောထမ်းခရီးတွင်၊ထိုမြို့မှာတည်း၏။ထို
၁၉ မြို့ရှေ့မှာတဲကိုဆောက်လေ၏။– တဲဆောက်ရာ
မြေအကွက်ကို ရှေခင်၏အဘ၊ ဟာမော်၏ သား
တို့တွင်၊ ငွေတပိသာ အမိုး ပေး၍ ဝယ်ရသ
၂၀ တည်း။–ထိုအရပ်၌ယဇ်ပလ္လင်ကို တည်
ပြီးလျှင်၊ ဧလေ ဧလောဟေ ဣသရေလဟူ၍ ခေါ်
လေ၏။

၃၄

၁ ယာကုပ်၏ မယား၊ လေအာ ဖွားမြင် သော
သမီးဒိနသည်၊ထိုပြည်၏အမျိုးသမီးတို့ကိုအကြည့်
၂ အရှု သွားရာတွင်၊– ထိုပြည်ကို အစိုးရသော
ဟိဝိအမျိုး၊ ဟာမော်မင်း၏ သားရှေခင်သည်
ဒိနကိုမြင်လျှင်၊ဟုသွား၍အိပ်ဖော်ပြုလျှက်၊သူ
၃ အသရေကို ရှုတ်ချလေ၏၊– နောက်မှ သူကိုချစ်
သောမိတ်မကုန်၊အမြဲချစ်၍၊ မေတ္တာစကားနှင့်
၄ ဖြားယောင်းလျှက် နေ၏။– ခမည်းတော် ဟာ
မော် ထံသို့ သည်း ဝင်၍၊ ဤမိန်းမကို အ ကျွန်ုပ်
ကြင်ရာ ဖြစ်စေခြင်းငှါ၊ တောင်း၍ပေးတော်မူ
၅ ပါဟုလျှောက်ဆို၏။– ယာကုပ်သည်မိမိသမီးဒိန
ကို၊ရှေခင်မင်းသားရှုတ်ချကြောင်းကိုကြားသိ
သော်လည်း၊ မိမိသားတို့သည် တောအရပ်မှာ
တိရိစ္ဆာန်တို့နှင့်အတူရှိသည်ဖြစ်၍၊ သူတို့ကိုငံ့
၆ လင့်လျှက်တိတ်ဆိတ်စွာနေလေ၏။–ထိုနောက်၊
ရှေခင်အဘ ဟာမော်မင်းသည်ယာကုပ်နှင့်နှုတ်
ဆက်ခြင်းငှါထွက်၍၊– ယာကုပ်၏သားတို့သည်၊
သိတင်း ကြားသောအခါ၊ တောအရပ်မှ ပြန်
ရောက်ကြ၏၊ ထိုမင်းသားသည်ယာကုပ်၏သမီး

နှင့်အိပ်မိ၍၊ ဣသရေလအမျိုး၌ မိုက်သောအ
မှု၊ မပြုအပ်သော အရာကို ပြုမိ သောကြောင့်၊
ထိုသူတို့သည် မိတ်နာ၍ အလွန်အမျက် ထွက်ကြ
၈ ၏။- ဟာမော် မင်းလည်း သူတို့နှင့် နှုတ်ဆက်
လျက်၊ သားရှေခင်သည်၊ သင်တို့သမီးကို အ
လွန်ချစ်အားကြီးပါ၏။ထိမ်းမြားပေးစားကြပါ
၉ လော့။-သင်တို့သည်ငါတို့နှင့်အချင်းချင်းထိမ်း
မြားခြင်းကိုပြုလျက်၊ သင်တို့သမီးကိုပေးစားကြ
၁၀ လော့၊ငါတို့သမီးနှင့်လည်းစုံဖက်ကြလော့။-သင်
တို့သည် ငါတို့နှင့်အတူနေ၍၊ဤပြည်၌အဆီးအ
တားမရှိ၊ နေရာ ရလျက်၊ ကုန်သွယ်၊ ရောင်း
ဝယ်ခြင်းကိုပြု၍၊ အပိုင်ယူကြလော့ဟု ဆိုလေ
၁၁ ၏။- ရှေခင်ကလည်း၊သင်တို့မိတ်နှင့်တွေ့ကြပါ
၁၂ စေ၊ တောင်းသမျှကို ပေးပါမည်။- ကန်တော့
ဥစ္စာဖြစ်စေ၊ လက်ဆောင် ပဏ္ဏာဖြစ်စေ၊ နည်း
များမဆို၊တောင်းသည်အတိုင်းပေးပါမည်။ ဤ
မိန်းမကိုသာ ငါ့အားထိမ်း မြားပေးစားကြပါဟု၊
မိန်းမ၏အစ်ကိုနှင့်အဘကိုအားဆိုလေ၏။
၁၃ ယာကုပ်၏သားတို့သည်၊နှမဒိနကို ရှေခင်
မင်းသားရှုတ်ချသောအကြောင်းကိုထင်မြင်၍၊
မင်းသားနှင့် အဘ ဟာမော်ကို ပရိယာယ်ဖြင့်
၁၄ ပြန်ပြောသည်မှာ၊-အရေဖျားလှီးမင်္ဂလာကို မခံသောသူအား မပေးစားနိုင်
ပါ။ ပေးစားလျှင်၊ ကဲ့ရဲ့ဖွယ်သောအကြောင်း
၁၅ ဖြစ်ပါ၏။- သင်တို့သည် ငါတို့ကဲ့သို့ ယောက်ျားတိုင်းအရေဖျားလှီးမင်္ဂ
လာကို ခံလျှင်၊ ငါတို့သည် ဝန်ခံ ကြပါ
၁၆ မည်။- ထိုသို့ပြုလျှင်၊ ငါတို့ သမီးကို သင်တို့
အားပေးစား၍၊ သင်တို့၏သမီးနှင့်လည်း စုံဖက်
ကြသဖြင့်၊ သင်တို့နှင့်အတူ နေထိုင်၍၊ တမျိုး
၁၇ တည်းဖြစ်ကြလိမ့်မည်။- သို့မဟုတ်၊ငါတို့
စကားကို နားမထောင်၊ အရေဖျားလှီးမင်္ဂလာ
ကိုမခံလျှင်၊ ငါတို့သမီးကိုယူ၍သွားမည်ဟု
၁၈ ဆိုကြ၏။- ထိုစကားကို ဟာမော်မင်းနှင့်သား
၁၉ တော် ရှေခင်သည် နှစ်သက်၍၊- ထိုမင်းသား
သည်၊ ယာကုပ်၏ သမီးကို ချစ် အားကြီး သော
ကြောင့်၎င်း၊ အဘ၏အမျိုးသားချင်းအပေါင်းတို့
ထက်အသရေ ရှိသော ကြောင့်၎င်း၊ ရှုတ်ချွန်း
ဝန်ခံလေ၏။
၂၀ ထိုအခါ၊ ဟာမော်မင်းနှင့် သားတော်ရှေခင်
သည်၊ မိမိမြို့တံခါးသို့ သွား၍၊ မြို့သား တို့နှင့်
၂၁ နှုတ်ဆက်လျက်၊- အချင်းတို့၊ ဤ သူတို့ သည်
ငါတို့နှင့် သင့်တင့် ကြပြီ။ ငါတို့ ပြည်၌ နေ၍
ကုန်ကူးရောင်းဝယ်မှုကိုပြုကြပါစေ။ငါတို့
ပြည်သည်သူတို့နေသာအောင်ကျယ်ပေ၏။ သူ
တို့သမီးများနှင့် အိမ်ထောင်ဖက်ပြုကြမည်။ ငါတို့
သမီးများကိုလည်းသူတို့အားထိမ်းမြားပေးစား
၂၂ ကြမည်။-ထိုရာတွင်သူတို့သည်အရေဖျားလှီးမင်္ဂ
လာကိုခံသကဲ့သို့၊ ငါတို့တွင် ယောက်ျားတိုင်း
အရေဖျားလှီးမင်္ဂလာကိုခံမှသာ၊ထိုသူတို့သည်
ငါတို့တွင်နေ၍တမျိုးတည်းဖြစ်စေခြင်းငှါ ဝန်
၂၃ ခံကြလိမ့်မည်။-သူတို့၏သိုးနွားမှစ၍တိရိစ္ဆာန်
များ၊ ဥစ္စာများတို့သည် ငါတို့ဥစ္စာဖြစ်ကြလိမ့်
မည် မဟုတ်လော။ သူတို့အလို သို့လိုက်ကြမည်။
သို့ပြုလျှင်သူတို့သည် ငါတို့တွင်နေကြလိမ့်မည်
၂၄ ဟု၊- ဟာမော်မင်းနှင့် သားတော်ရှေခင် ပြော
သော စကားကို၊ မြို့တံခါးမှ ထွက် သော သူအ
ပေါင်းတို့သည်နားထောင်၍၊ ယောက်ျားရှိသမျှ
တို့သည်အရေဖျားလှီးမင်္ဂလာကိုခံကြ၏။
၂၅ ထိုသို့ခံ၍သုံးရက်မြောက်သောနေ့၌၊အလွန်
နာကြသောအခါ၊ ယာကုပ်သား၊ဒိန၏မောင်ရှိ
မောင်နှင့်လေဝိ၊ညီနောင်နှစ်ယောက်တို့သည်၊
သား ထက် နက် ထံ ယောက် တစ်စင်း စီ စွဲကိုင်
လျက်၊ အ တိ မ ရှိ သော ထို မြို့ ကို တိုက် ၍၊
၂၆ ယောက်ျားအပေါင်း တို့ကို သတ်လေ၏။-ဟာ
မော်မင်းနှင့် သားတော် ရှေခင်ကိုလည်းထား
ထက်နက်ဖြင့်သတ်ပြီးလျှင်၊ ဒိနကိုရှေခင်အိမ်
၂၇ မှနှုတ်ယူ၍ပြန်သွားကြ၏။- မိမိတို့နှမရှုတ်ချ
ခြင်းကိုခံရသောကြောင့်၊ တဖန်ယာကုပ်သား
တို့သည်အသေသတ်ပြီးသောသူတို့ဆီသို့ သွား
၂၈ ပြန်၍၊ မြို့ကိုလုယက်ဖျက်ဆီးသဖြင့်၊-သူတို့သိုး
ဆိတ်၊နွား၊မြည်းမှစ၍၊ မြို့၌ရှိသမျှ၊ လယ်၌ရှိသမျှ
၂၉ သောဥစ္စာကို၎င်း၊- သူတို့သားမယားသူငယ်အ
ပေါင်းကို၎င်း သိမ်းယူ၍၊ အိမ်တို့၌ ရှိ သမျှကို
၃၀ လည်းလုယက်ဖျက်ဆီးကြ၏။-ထိုအခါယာကုပ်
က၊ သင်တို့ သည် ငါ့ကိုညှဉ်းဆဲကြပြီတကား။
ခါနနိလူ၊ဖေရဇိလူတည်းဟူသော၊ဤပြည်သား
တို့သည်ငါ့ကို ရွံရှာအောင်ပြုကြပြီတကား။ ငါ
တို့၌ လူအရေအတွက်အားနည်းသောကြောင့်၊
သူတို့သည်စုဝေး၍ငါ့ကိုတိုက်သတ်သဖြင့်၊ ငါ
နှင့် ငါ့အိမ်သူအိမ်သားတို့ကို ဖျက်ဆီးကြလိမ့်
မည်ဟု၊ရှိမောင်နှင့်လေဝိတို့အား ဆိုလေသော်၊-
၃၁ သူတို့က၊ ငါတို့နှမကိုပြည်တန်ဆာကဲ့သို့ပြုမှတ်
၍ပြုရမည်လောဟုပြန်ဆို၏။

## ၃၅

၁ ထိုနောက်ဘုရားသခင်က၊ သင်ထ၍ဗေသလ
အရပ်သို့သွားနေလော့၊ သင်သည်အစ်ကိုဧသော
ထံမှပြေးသောအခါ၊ သင့်အားထင်ရှားသောဘု
ရားသခင်အမှို၊ ထိုအရပ်၌ယဇ်ပလ္လင်ကိုတည်
၂ လော့ဟု၊ ယာကုပ်အားမိန့်တော်မူ၏။- ထိုအခါ
ယာကုပ်သည်မိမိသူမိမိသားများနှင့်၊ မိမိ၌ရှိ
သော သူအပေါင်းတို့ကိုခေါ်၍၊ သင်တို့တွင်ပါ
သော၊ တပါးအမျိုးသားတို့၏ဘုရားတို့ကိုပယ်
ဖြစ်ကြလော့၊ အဝတ်ကိုလဲ၍သန့်ရှင်းခြင်းရှိစေ
၃ ကြလော့၊- ထ၍ဗေသလအရပ်သို့သွားကြ
မှီ၊ ငါသည်ဆင်းရဲခံရသောကာလငါ့ကိုထူး၍၊
ငါသွားသောလမ်း၌ ကြွတော်မူသောဘုရားသ
ခင်အမှို၊ ထိုအရပ်၌ယဇ်ပလ္လင်ကိုငါတည်မည်
၄ ဟုဆိုလေ၏။- သူတို့သည်လည်း၊ မိမိတို့၌ပါ
သော တပါး အမျိုးသားတို့၏ ဘုရား အပေါင်း
တို့နှင့်၊ နားတွင်ပန်သော နားပန်တန်ဆာရှိသမျှတို
ကို၊ ယာကုပ်အားပေး၍၊ ယာကုပ်သည်၊ ရှေခင်
မြို့နား တွင် ရှိသော သပိတ်ပင် အောက်၌ မြှုပ်
၅ ထားလေ၏။-သူတို့ပြောင်းသွားကြသောအခါ၊
ပတ်ဝန်းကျင်မြို့သားတို့သည်၊ ဘုရားသခင်ကို
ကြောက်ရွံ့၍၊ ယာကုပ်သားတို့ကိုမလိုက်မှတ်ဘဲ
၆ နေကြ၏။- ယာကုပ်သည် မိမိ၌ပါသော သူအ
ပေါင်းနှင့်တကွ၊ ခါနာန်ပြည် လုဇမြို့တည်းဟူ
၇ သော၊ဗေသလအရပ်သို့ရောက်ကြသော်၊-ယဇ်
ပလ္လင်ကိုတည်၍၊ထိုအရပ်ကိုဧလဗေသလအမည်
ဖြင့်တခန်သမုတ်ပြန်လေ၏။ အကြောင်းမူကား၊
အစ်ကိုထံမှ ပြေးသောအခါ၊ ထိုအရပ်၌ဘုရား
သခင်ထင်ရှားတော်မူသတည်း။

၈ ရေဗက္က၏အထိန်း ဒေဗောရသေ၍၊ ဗေသလ
အရပ်၌ သပိတ်ပင်အောက်တွင်သင်းဂြိုဟ်ခြင်း
ကိုခံရလေ၏။ ထိုအပင်ကို အာလုမ္ဗာကုတ်ဟူ၍
ထွင်သတည်း။

၉ ယာကုပ်သည်ပါဒနာရံအရပ်မှပြန်လာသော
နောက်၊ တခန်ဘုရားသခင်ထင်ရှား၍ကောင်း
၁၀ ကြီးပေးတော်မူပြီးလျှင်၊- သင်သည်ယခုယာ
ကုပ်အမည်ရှိ၏။ နောင်၌သင်၏အမည်ကိုယာ
ကုပ်ဟူ၍ မခေါ်ရ။ ဣသရေလဟူ၍ခေါ်ရမည်
ဟုမိန့်တော်မူလျက်၊ ဣသရေလအမည်ဖြင့်သ
၁၁ မုတ်တော်မူ၏။- တခန်ဘုရားသခင်က၊ငါသည်
အနန္တ တန်ခိုးရှင် ဘုရားသခင်ဖြစ်၏။ တိုးပွား
များပြားလော့၊ လူတမျိုးမက၊ အမျိုးမျိုးတို့သည်
သင်၌ဖြစ်ကြလိမ့်မည်။ ရှင်ဘုရင်တို့သည်သင်၏
၁၂ အမျိုးအနွယ်၌ဖြစ်ကြလိမ့်မည်။- အာဗြဟံနှင့်
ဣဇာက်အား ငါပေးသောပြည်ကိုသင်နှင့်သင်၏
အမျိုး အနွယ်အား ငါပေးမည်ဟုမိန့်တော်မူ
၁၃ ၏။- ထိုသို့ယာကုပ်နှင့် နှုတ်ဆက်၍မိန့်မြွက်
တော်မူရာအရပ်မှ၊ဘုရားသခင်တက်ကြွတော်
၁၄ မူ၏။-ဘုရားသခင်နှုတ်ဆက်၍မိန့်မြွက်တော်မူ
ရာအရပ်၌၊ ယာကုပ် သည် ကျောက် တိုင်ကို
စိုက်၍၊ကျောက်တိုင်ပေါ်၌ သွန်းလောင်းရာ ပူ
ဇော်သကာကိုငှဲ၊ ဆီကိုငှဲ လောင်းလေ၏။-
၁၅ ဗျာပိတ်ဟောင်ကို ခံရသောထိုအရပ်ကိုလည်း၊
ဗေသလဟူ၍တခန်သမုတ်ပြန်လေ၏။

၁၆ ထိုနောက်တခန် ဗေသလအရပ်မှ ခရီးသွား
ပြန်၍၊ ဧဖရတ်မြို့နှင့် နီးသော အခါ၊ ရာခေလ
သည်သားဖွားဆဲ့သောအမှိန်ရောက်၍၊ပြင်းစွာ
၁၇ သောဝေဒနာကိုခံရ၏။-ထိုသို့ပြင်းစွာခံနေရစဉ်
တွင်၊ဝမ်းဆွဲကာ၊မမိုးရိမ်နှင့်၊ သားယောကျာ်း
၁၈ ကိုရပြီဟုဆိုလေ၏။- ရာခေလသည် သေဆဲဆဲ
ဆဲရှိ၍၊နံပါဏည်ထွက်စည်အခါ၊ထိုသားကိုဗေ
နောနိအမည်ဖြင့်မှည့်လေ၏။ အဘမူကား၊ ဗင်္ယာ
၁၉ မိန်အမည်ဖြင့်မှည့်သတည်း။-ရာခေလသေ၍၊
ဗက်လင်အမည်ရှိသော ဧဖရတ်မြို့သို့သွားသော
လမ်းခရီးတွင်၊သင်းဂြိုဟ်ခြင်းကိုခံလေ၏။-ယာ
ကုပ်သည်၊သင်္ချိုင်းအပေါ်မှာမှတ်တိုင်ကိုစိုက်
လေ၏။ ထိုမှတ်တိုင်ကား၊ယနေ့တိုင်အောင်ရာ
ခေလ၏သင်္ချိုင်းမှတ်တိုင်ဖြစ်သတည်း။

၂၁ ဣသရေလသည်တခန်ခရီးသွားပြန်၍၊ ဧဒါ
၂၂ ထင့်စင်ကိုလွန်ပြီးမှထဲကိုဆောက်လေ၏။- ထို
အရပ်၌နေသောအခါ၊ရုဗင်သည်သွား၍အဘ၏
မယား ငယ်၊ ဗိလဟာနှင့် အိပ် လေ၏။ ထိုသ
တင်းကိုဣသရေလကြား၏။

၂၃ ယာကုပ်သား တကျိပ် နှစ်ပါးရှိ၏။ လေအာ
တွင်မြင်သော သားကား၊ ယာကုပ်၏သားဦးရု
ဗင်၊အစရှိသောရှိမောင်၊ လေဝိ၊ ယုဒ၊ဣသခါ၊
၂၄ ဇာဗုလုန်တည်း။- ရာခေလသားကား၊ ယော
၂၅ သပ်နှင့်ဗင်္ယာမိန်တည်း။- ရာခေလ၏ကျွန်မ
၂၆ ဗိလဟာသားကား၊ဒန်နှင့်နဿလိတည်း။- လေ
အာ၏ကျွန်မ ဇိလပသားကား၊ ဂဒ်နှင့်အာရှာ
တည်း။ ဤသူတို့ကား၊ ပါဒနာရံပြည်၌ ဖွားမြင်
သောယာကုပ်၏သားများတည်း။

၂၇ ထိုနောက် ယာကုပ် သည် အာဗြ ဟံ နှင့် ဣ
ဇာက်တည်းခိုရာ၊မံရေအရပ်၊ထေဗြုန်မြို့တည်း

ဟူသော ထိရထ သာတမြို့၌ နေသော၊ အဇဗု
၂၀ ဓာတ်ထံသို့ရောက်လေ၏။- ဆုဆက် အသတ်
သည် အနှစ်တရာ ရှစ်ဆယ်နှင့် ပြည့်စုံသည်မှ
၂၁ သော်၊- အသက်ကြီးရင့်ရာ၊ ကာလပြည့်စုံရာ၌
အသက်ချုပ်၍ အနိစ္စဖြစ်သဖြင့်၊ မိမိလူမျိုးစုဦး
ဝေးရာသို့ ရောက်လေ၏။ သားဧသော နှင့်ယာ
ကုပ်တို့သည်သင်းပြိုဟ်ကြ၏။

၃၆

၁ ဧဒုံအမည်ရှိသောဧသောအမျိုးအနွယ်၏အ
၂ ထုပ္ပတ္တိများဟူမူကား၊- ဧသောသည် ဟိတ္တိအ
မျိုးဧလုန်၏ သမီးအာဒတည်းတယောက်၊ ဟိဝိအမျိုး
ဇိဗောင်သား အာနာ၏သမီး အဟောလိဗာမတ
ယောက်၊ ခါနာန် အမျိုး သမီး နှစ်ယောက် နှင့်
၃ ၎င်း၊- ဣရှမေလသမီးတည်းဟူသောနဗာယုတ်
နှမဗာရှမတ် တယောက်နှင့်၎င်း ထိမ်းမြားလေ
၄ လေ၏၊- ဧသော မယား အာဒ ဖွားသော သား
ကား၊ ဧလိဖတ်၊ ဗာရှမတ်ဖွားသောသားရွေလ
၅ တည်း။-အဟောလိဗာမဖွားသောသားကား၊
ယုရှ၊ ယာလံ၊ ကောရတည်း။ ဤသူတို့ကား၊ ခါ
နာန်ပြည်၌ဧသောမြင်သောသားတည်း။
၆ ဧသောသည်မယားသားသမီးနှင့်တကွ၊ အိမ်
သူအိမ်သားအပေါင်းတို့ကို၎င်း၊ သိုးနွားစသည်
တို့နှင့်တိရစ္ဆာန်ရှိသမျှတို့ကို၎င်း၊ ခါနာန်ပြည်၌
ရတတ်သောဥစ္စာရှိသမျှတို့ကို၎င်းယူ၍၊ ညီယာ
၇ ကုပ်ထံမှ ပြောင်းသွား လေ၏။- အကြောင်းမူ
ကား၊ ထိုသူနှစ်ပါးတို့သည် ဥစ္စာများလွန်းသော
ကြောင့် တရပ်တည်း မနေနိုင်ကြ။ သူတို့နေရာ
မြေသည်၊ သူတို့တိရစ္ဆာန်များကြောင့် မဆံ့နိုင်
၈ ရာ။-သို့ဖြစ်၍ ဧဒုံအမည်ရှိသောဧသောသည်မိ
ရတောင်ပေါ်မှာနေလေ၏။
၉ မိရ တောင်ပေါ်မှာ ဧဒုံ အမျိုးသားတို့၏ အဖ
ဧသော၏ သားစည်ခြေးဆက်တို့ကို ဆိုပေအံ့။-
၁၀ ဧသော၏သားတို့အမည်ကား၊မယားအာဒဖွား
သောသား ဧလိဖတ်၊မယားဗာရှမတ် ဖွားသော
၁၁ သားရွေလတည်း။- ဧလိဖတ်သားကား၊ တေ
၁၂ မန်၊ဩမရ၊ဇေဖော၊ဂါတံ၊ကေနတ်တည်း။- ဧ
သော သား ဧလိဖတ်၏မယားငယ်၊ တိမန ဖွား
သောသားကား၊ အာမလက်တည်း။ ဤသူ တို့
သည် ဧသော မယား အာဒ ၏ အနွယ် ဖြစ်သ
၁၃ တည်း။-ရွေလသားကား၊နာဟတ်၊ဇေရ၊ရှမ္မ၊
မိဇ္ဇတည်း။ ဤသူတို့သည် ဧသောမယားဗာရှ
၁၄ မတ်၏ အနွယ် ဖြစ်သတည်း။- ဇိဗောင်သား
အာနာ၏သမီး၊ဧသောမယားအဟောလိဗာမဖွား
သောသားကား၊ယုရှ၊ယာလံ၊ကောရတည်း။
၁၅ ဧသော သားတို့တွင် မိုလ်လုပ်သောသူ တို့မူ
ကား၊သားဦးဧလိဖတ်၏သားမိုလ်တေမန်၊မိုလ်
၁၆ ဩမရ၊မိုလ်ဇေဖော၊မိုလ်ကေနတ်၊-မိုလ်ဂါတံ၊
မိုလ်အာမလက်တည်း။ ဤမိုလ်တို့သည်အာဒ၏
အနွယ်၊ဧဒုံပြည်၌ဧလိဖတ်ရသောသားဖြစ်သ
၁၇ တည်း။- ဧသောသားရွေလ၏သားကား၊ မိုလ်
နာဟတ်၊ မိုလ်ဇေရ၊ မိုလ်ရှမ္မ၊ မိုလ်မိဇ္ဇတည်း။
ဤ မိုလ်တို့သည် ဧသောမယား ဗာရှမတ်၏ အ
နွယ်၊ ဧဒုံ ပြည်၌ ရွေလ ရသော သား ဖြစ်သ
၁၈ တည်း။- ဧသော ၏ ယား အဟောလိ ဗာမ ၏
သားကား၊ မိုလ်ယုရှ၊ မိုလ်ယာလံ၊ မိုလ်ကောရ
တည်း။ ဤမိုလ်တို့သည် အာနာ၏သမီး၊ဧသောမ
၁၉ ယားအဟောလိဗာမ ၏သားဖြစ်သတည်း။- ဧဒုံ
အမည်ရှိသော ဧသော၏ သားမြေးများ၊ သူတို့
တွင်မိုလ်လုပ်သောသူများ။ဤသို့တည်း။
၂၀ ထိုပြည်၌နေသောဟောရိအမျိုး။ စိရ၏သား
၂၁ ကား၊လောတန်၊ရှောဗလ၊ဇိဗောင်၊အာနာ၊- ဒိ
ရှုန်၊ဧဇာ၊ ဒိရှန်တည်း။ ဤသူတို့သည်ဧဒုံပြည်၌
ဟောရိ အမျိုး။ စိရ၏ သား တို့တွင် မိုလ်လုပ်
၂၂ သောသူ ဖြစ်သတည်း။- လောတန်သားကား၊
ဟောရိနှင့်ဟေမံတည်း။ လောတန်နှမကား၊
၂၃ တိမနတည်း။-ရှောဗလ သားကား၊အာလဝန်၊
၂၄ မနာဟတ်၊ ဧဗလ၊ ရှေဖော၊ ဩနံ တည်း။- ဇိ
ဗောင်သားကား၊ အာယနှင့်အာနတည်း။ ထို
အာန ကား၊ အဖ ဇိ ဗောင် ၏ မြည်းတို့ကို ထိန်း
သောအခါ၊တော၌နွေးသောစမ်းရေတွင်းတို့ကို
၂၅ တွေ့သောသူပေတည်း။- အာနသားကား၊ဒိရှုန်
၂၆ နှင့်သမီးအဟောလိဗာမတည်း။-ဒိရှုန်သားကား၊
၂၇ ဟေမ်ဒန်၊ ဧရှဗန်၊ ဣသရန်၊ခေရန်တည်း။- ဧဇာ
သားကား၊ ဗိလဟန်၊ ဇာဝန်၊ အာကန်တည်း။-
၂၈၊၂၉ ဒိရှန်သားကား၊ ဥဇနှင့်အာရန်တည်း။-ဟော
ရိအမျိုး မိုလ် များကား၊ မိုလ်လောတန်၊ မိုလ်
၃၀ ရှောဗလ၊ မိုလ်ဇိဗောင်၊ မိုလ်အာန၊- မိုလ်ဒိ
ရှုန်၊မိုလ်ဧဇာ၊ မိုလ်ဒိရှန်တည်း။ ဤသူတို့သည်
စိရပြည်၌ မိုလ်လုပ်သော သူတို့တွင်၊ ဟောရိ
အမျိုးမိုလ်ဖြစ်သတည်း။
၃၁ ဣသရေလအမျိုး၌ အမိုးရသောမင်းကြီးမရှိ
မှီ၊ ဧဒုံပြည်၌အမိုးရသောမင်းကြီးဟူမူကား။-
၃၂ ဗောရသားဗေလသည်ဧဒုံပြည်၌မင်းပြု၏။မြို့
၃၃ တော်ကား၊ဒိနှာဗာမြို့တည်း။-ဗေလာမင်းစေ

၍သူ၏အရာ၌ဗောဇရအရပ်သား၊ဇေရ၏သား
၃၄ ယောဗဗ်သည် မင်းပြုလေ၏။ ယောဗဗ် မင်း
သေ၍၊သူ၏အရာ၌တေမနိအရပ်သားဟုရှံသည်
၃၅ မင်းပြုလေ၏။ ဟုရှံမင်းသေ၍၊မောဘလွင်ပြင်
၌ မိဒျန်လူတို့ကို လုပ်ကြံသောသူ၊ ဗေဒဒ်သား
ဟာဒဒ်သည်၊ဟုရှံအရာ၌မင်းပြုလေ၏။မြို့တော်
၃၆ ကား၊အာဝိတ်မြို့တည်း။- ဟာဒဒ်မင်းသေ၍၊
သူ၏ အရာ၌ မာသရက် အရပ် သား စာမလ
၃၇ သည် မင်းပြုလေ၏။- စာမလမင်းသေ၍၊ သူ၏
အရာ၌မြစ်နားမှာ နေသောရဟောဘုတ်အရပ်
၃၈ သား ရှောလသည်မင်းပြုလေ၏။- ရှောလမင်း
သေ၍ သူ၏အရာ၌၊ အာခဗော်သားဗာလဟာ
၃၉ နန်သည် မင်းပြုလေ၏။- အာခဗော်သား ဗာ
လဟာနန်မင်းသေ၍ သူ၏အရာ၌ ဟာဒါသည်
မင်း ပြုလေ၏၊ မြို့ တော် ကား၊ ပေါ မြို့ တည်း၊
ရှောတ်သား ဟော်ကား၊ မေဇဟပ် ၏ မြေး မာတ
ရက်၏ သမီး မဟေတဗေလတည်း။
၄၀ ဧသောမှဆင်းသက်၍မိမိအမျိုးအနွယ်၊ နေ
ရာအရပ်၊ ခံရသောအမည်နာမအလိုက်၊ မိုလ်လုပ်
သောသူဟူမူကား၊မိုလ်တိမန၊ မိုလ်အာလဝ၊
၄၁ မိုလ်ယေသတ်၊-မိုလ်အဟောလိဗာမ၊ မိုလ်ဧ
၄၂ လာ၊ မိုလ်ပိနုန်၊- မိုလ်ကေနတ်၊ မိုလ်တေမန်၊
၄၃ မိုလ်မိဗဇာ၊- မိုလ်မာဂဒျေလ၊မိုလ်ဤရံတည်း။
ဤသူတို့သည်မိမိနေရာအရပ်၊ မိမိပိုင်သောပြည်
၌၊ဧဒုံမိုလ်များဖြစ်သတည်း။ ဧသောသည်ဧဒုံ
အမျိုးသားတို့၏အဘဖြစ်သတည်း။

၃၇

၁ ယာကုပ်သည်မိမိအဘတည်းခိုရာခါနာန်ပြည်
၂ ၌နေ၏။- ယာကုပ်အမျိုးအနွယ်၏ အကြောင်းအရာ
များ ဟူ မူ ကား၊ ယောသပ် သည် အသက် တ
ဆယ်ခုနစ်နှစ်ရှိ၍၊အစ်ကိုတို့နှင့်အတူသိုးဆိတ်
များကိုထိန်းလေ၏၊ အဘ၏မယားဗိလဟာနှင့်
ဇိလပ၏သားတို့နှင့်အတူနေ၍၊ သူတို့အပြစ်ကို
၃ အဘအားကြားပြောတတ်၏။-ဣသရေလသည်
အသက်ကြီးစဉ် အခါ သား ယောသပ်ကို ရ
သောကြောင့်၊အခြားသောသားအပေါင်းတို့ကို
ချစ် သည်ထက် ယောသပ်ကို သာ၍ ချစ်၏၊ အ
ဆင်းအရောင်ထူးခြားသောအင်္ကျီကို ချုပ်၍ပေး
၄ ၏။- အဘသည်မိမိသားအပေါင်းတို့တွင်၊ယော
သပ်ကိုသာ၍ချစ်ကြောင်းကို၊ အစ်ကိုတို့သည်
သိမြင်သောအခါ၊သူကိုမုန်း၍၊ မေတ္တာစကား
ကိုလည်းမပြောနိုင်ကြ။

၅ ယောသပ်သည် အိပ်မက် ကိုမြင်၍၊ အစ်ကို
တို့အားပြန်ပြောသောကြောင့်၊ သူတို့သည်သာ၍မုန်း
၆ ကြ၏။- အိပ်မက်ကိုအထက်သို့ ပြန်ပြောသနည်း၊
တူ မူကား၊ ကျွန်ုပ် မြင်ရသော အိပ်မက်ကို နား
၇ ထောင် ကြပါလော့။- ကျွန်ုပ် တို့သည်လယ် ၌
ကောက်လှိုင်းကိုစည်း၍နေကြစဉ်တွင်၊ ကျွန်ုပ်
ကောက်လှိုင်းသည်ထ၍ မတ်တတ် နေသဖြင့်၊
သင်တို့၏ကောက်လှိုင်းတို့သည်ဝိုင်း၍ရပ်လျက်၊
ကျွန်ုပ် ကောက်လှိုင်းကို ရှိခိုးကြသည်ဟု ပြော
၈ ဆိုလေ၏၊-အစ်ကိုတို့ကလည်း၊သင်သည်ငါတို့
၌မင်းပြုရလိမ့်မည်လော၊ ငါတို့ကိုအစိုးရလိမ့်
မည်လော ဟုပြန်ဆို၍၊ သူ၏အိပ်မက် နှင့် သူ၏စ
ကားအကြောင်းကြောင့်သာ၍ မုန်းကြ၏။
၉ တဖန် အိပ်မက်ကိုမြင်ပြန်၍ အစ်ကိုတို့အား
အခြားသောအိပ်မက်ကိုကျွန်ုပ်မြင်ရပြီ၊ နေ၊ လ
နှင့်တဆယ့်တစ်လုံးတို့သည်၊ကျွန်ုပ်ကို
၁၀ ရှိခိုးကြ၏ဟု ကြားပြောလေ၏။- ထိုသို့အဘနှင့်
အစ်ကိုတို့အား ကြားပြောသောအခါ၊ အဘက၊
သင်မြင်သောအိပ်မက်သည်အဘယ်သို့နည်း၊ငါ
နှင့်သင်၏အမိ၊သင်၏အစ်ကိုတို့သည်သင့်ထံသို့
ဝင်စား၍ဦးညွှတ်ရမည်လောဟူ၍၊သူကို
၁၁ ဆုံးမလေ၏။-အစ်ကိုတို့သည်သူကိုငြူစူကြ၏။အ
ဘသည်ထိုအရာကိုမှတ်လေ၏။
၁၂ အစ်ကိုတို့သည် အဘ၏ သိုးဆိတ်များကို ရှေ
၁၃ ခင်မြို့မှာ ထိန်းခြင်းငှါသွားကြ၏။- ဣသရေလ
သည် ယောသပ်ကို ခေါ်၍၊ သင်၏ အစ်ကိုတို့
သည် သိုး ဆိတ် များ ကို ရှေခင် မြို့မှာ ထိန်းကြ
သည်မဟုတ်လော၊လာပါ၊သင့်ကိုသူတို့ရှိရာသို့
ငါစေလွှတ်မည်ဟုခေါ်လျှင်၊ ကျွန်ုပ်ရှိပါသည်ဟု
၁၄ ဆိုသော်၊-အဘက သွားပါ၊အစ်ကိုတို့သည်ချမ်း
သာသလော၊သိုးဆိတ်တို့သည်ကောင်းမွန်စွာ
ရှိသလောဟူ၍ကြည့်ရှုပြီးလျှင်၊ ငါ့အားသိတင်း
ကြားပြော ပါလော့ဟုမှာထားလျက်၊ ဟေဗြုန်ချိုင့်
မှစေလွှတ်သဖြင့်၊ သူသည်ရှေခင်မြို့သို့ ရောက်
၁၅ လေ၏။- တော၌လှည့်လည်စဉ်တွင်၊ တစုံတ
ယောက်သောသူနှင့်တွေ့၍၊ ထိုသူက၊သင်သည်
၁၆ အဘယ်ကိုရှာသနည်းဟုမေးလျှင်၊-အစ်ကိုများကို
ရှာ၏၊အဘယ်မှာထိန်းကြသည်ကိုပြောပါဟုဆို
၁၇ သော်၊- ထိုသူက၊ဤအရပ်မှထွက်သွားပြီ၊ ဒေါ
သန်မြို့သို့ သွားကြစို့ဟု သူတို့ပြောသံကိုကျွန်ုပ်
ကြားခဲ့ပြီဟုဆို၏၊ ယောသပ်သည်လည်း၊အစ်
ကိုတို့ကိုလိုက်ရှာ၍ဒေါသန်မြို့မှာတွေ့လေ၏။

၁၈ အနီးသို့မရောက်မှီအဝေး၌ရှိစဉ်ပင်၊ အစ်ကို
တို့သည်မြင်လျှင်၊ သတ်ခြင်းငှါတိုင်ပင်လျက်၊-
၁၉၊၂၀ ကြည့်လော့၊ အိပ်မက်ဆရာလာပြီ။-ကိုင်ကြ၊
သူကိုသတ်၍ တစုံတခုသောတွင်းထဲသို့ ချပြစ်
ကြစို့၊ ဆိုးသောသားရဲတစုံတခုကိုက်စား ပြီဟု
ပြောကြစို့၊ ထိုသို့ပြုလျှင်၊သူ၏အိပ်မက်တို့သည်
အဘယ်သို့နေရာကျမည်ကိုကြည့်ကြစို့ဟု၊ အ
၂၁ ချင်းချင်း ပြောဆို ကြ၏၊- ထိုစကား ကို ရုဗင်
ကြားလျှင်၊ သူကို မသတ်ဘဲ နေကြစို့ဟု ဆို
လျက်၊သူတို့လက်မှယောသပ်ကိုနှုတ်လေ၏၊-
၂၂ တဖန်ရုဗင်က၊ သူ၏အသွေးကိုမသွန်းကြနှင့်၊
ကိုယ် လက်နှင့် မပြုဘဲ၊ တော၌ ရှိသော
တွင်းထဲသို့ ချကြစို့ဟု၊ သူတို့လက်မှယောသပ်
ကိုနှုတ်ယူ၍၊အဘ၌တဖန်အပ်မည်အကြံရှိသည်
နှင့်ဆိုလေ၏၊

၂၃ ယောသပ်သည်အစ်ကိုတို့ထံသို့ရောက်သော
အခါ၊သူဝတ်သောအင်္ကျီ၊အဆင်းထူးခြားသော
၂၄ အင်္ကျီကို ချွတ်ပြီးမှ၊- သူကိုကိုင်ယူ၍ တွင်းထဲ
သို့ချကြ၏၊ ထိုတွင်း၌ရေမရှိ၊သွေ့ခြောက်သော
၂၅ တွင်းဖြစ်သတည်း။- ထိုနောက်၊အစာစားခြင်း
ငှါထိုင်ကြစဉ်၊မျှော်ကြည့်၍၊ဣရှမေလအမျိုး
သားအစုအဝေးသည်ဂိလဒ်ပြည်မှလာ၍ နံ့သာ
မျိုး၊ဗာလစံဆေး၊ရုရန်ဆေးများကိုကုလားအုတ်
ပေါ်၌တင်ဆောင်လျက်၊ အဲဂုတ္တုပြည်သို့ခရီး
၂၆ သွားကြသည်ကိုမြင်လျှင်၊- ယုဒက၊ ငါတို့သည်
ညီကိုအောက်၍ သွေးကြောင်းကို ဖုံးထားလျှင်၊
၂၇ အဘယ်ကျေးဇူး ရှိသနည်း။- ကိုင်ကြ၊ ကိုယ်
တိုင်မညှဉ်းဆဲဘဲ၊ ဣရှမေလလူတို့အား ရောင်း
လိုက်ကြစို့၊ သူသည်တို့ညီ၊ တို့အမျိုးဖြစ်၏ဟု
အစ်ကို တို့အား ဆို သည် ရှိ သော်၊ ညီ အစ်
၂၈ ကို တို့ သည် ဝန်ခံ ကြ၏၊- ထိုအခါ၊ မိဒျန် အ
မျိုးသားကုန်သည် တို့သည် ခရီးသွားကြစဉ်
တွင်၊ အစ်ကိုတို့သည်ယောသပ်ကိုတွင်းထဲက ဆွဲ
တင်ပြီးလျှင်၊ ငွေအကျပ်နှစ်ဆယ်အဖိုးနှင့်၊ ဣ
ရှမေလလူတို့အားရောင်း၍၊ထိုသူတို့သည်ယော
သပ်ကိုအဲဂုတ္တုပြည်သို့ဆောင်သွားကြ၏။

၂၉ ရုဗင်သည်လည်း တွင်းသို့သွား၍၊ တွင်းထဲ
မှာယောသပ်မရှိသည်ကိုမြင်လျှင်၊ မိမိအဝတ်
ကိုဆွဲဆုတ်လျက်၊- ညီတို့ရှိရာသို့ သွား၍၊ သူ
ငယ်မရှိပါတကား၊ ငါသည်အဘယ်သို့ သွားရ
၃၀ ပါမည်နည်းဟုဆိုလေ၏၊- သူတို့သည်လည်း၊
ယောသပ်အင်္ကျီကိုယူ၍၊ဆိတ်သငယ်ကိုသတ်
၃၁ ပြီးမှ၊အင်္ကျီကိုအသွေး၌နှစ်လေ၏၊- ထိုနောက်
မှ၊အဆင်းထူးခြားသော ထိုအင်္ကျီကိုပေးလိုက်
၃၂ ၍၊အဘတို့သည်အဖထံသို့ဆောင်ခဲ့လျက်၊ ဤ
အင်္ကျီကို အတွေ့နှပ်တို့ တွေ့ပါပြီ၊ သား၏အင်္ကျီ
ဟုတ်သည်မဟုတ်သည်ကိုကြည့်ပါဟုဆိုလျှင်၊-
၃၃ ထိုအင်္ကျီကိုအဖမှတ်မိ၍၊ ငါ့သား၏အင်္ကျီမှန်၏၊
သူကိုဆိုးသောသားရဲကိုက်စားပြီ၊ အကယ်၍
ယောသပ်ကိုအပိုင်းအပိုင်းကိုက်ဖြတ် ပါပြီတ
၃၄ ကားဟုဆိုလျက်၊- မိမိအဝတ်ကို ဆွဲဆုတ်၍၊
လျှော်တေအဝတ်ကိုပတ်စည်းသဖြင့်၊ အင်တန်
ကာလပတ်လုံး၊သားကြောင့်စိတ်မသာညည်း
၃၅ တွားလျက် နေလေ၏၊- သားသမီး အပေါင်းတို့
သည်၊အဖကိုနှစ်သိမ့်စေခြင်းငှါကြိုးစားသော်
လည်း၊သူသည်နှစ်သိမ့်စေသောစကားကိုနားမ
ထောင်ဘဲ၊ သားရှိရာ မရဏာနိုင်ငံသို့ စိတ်မ
သာညည်းတွားလျက် ဆင်းသက်တော့မည်ဟု
ဆိုလေ၏၊ ထိုသို့ ယောသပ် အဖသည်၊ သား
ကြောင့် ငိုကြွေး မြည်တမ်းလျက် နေလေ၏၊-
၃၆ ယောသပ် ကိုကား၊ မိဒျန်လူတို့သည် အဲဂုတ္တု
ပြည်သို့ဆောင်သွား၍၊ ဖာရောဘုရင်၏အမတ်
ဖြစ်သော ကိုယ်ရံ တော်မှူး၊ ပေါတိဖာ ထံမှာ
ရောင်းကြ၏၊

၃၈

၁ ထိုကာလအခါယုဒသည်ညီအစ်ကိုနေရာမှ
သွား၍၊ ဟိရအမည်ရှိသောအဒုလံအမျိုးသား
၂ ထံသို့ ဝင်လေ၏၊- ထိုအရပ်၌ ရှုအာအမည်ရှိ
သော၊ ခါနာန်အမျိုးသား၏ သမီးကို တွေ့မြင်၍၊
၃ အိမ်ထောင်ဖက်ပြုလျက်၊-ထိုမိန်းမသည်ပဋိသန္ဓေ
ယူ၍၊သားကိုဖွားမြင်၏၊ ထိုသားကိုဧရအမည်
၄ မြင့်မှည့်လေ၏၊- တဖန်ပဋိသန္ဓေယူပြန်၍ဖွား
မြင်သောသားကိုဩနန်အမည်ဖြင့် မှည့်လေ၏၊-
၅ တဖန် ပဋိသန္ဓေ ယူပြန်၍ ဖွားမြင်သော သား
ကိုရှေလ အမည်ဖြင့် မှည့်လေ၏၊ ရှေလ ဖွား
သောအခါ၊ အဖသည်ခေဇိပ်မြို့မှာရှိသတည်း။
၆ ထိုနောက်မှယုဒသည် မိမိသားဦးဧရကိုတာ
၇ မာအမည်ရှိသောသတို့သမီးနှင့်ထိမ်းမြားစေ၏၊-ယု
ဒ၏သားဦး ဧရသည် ထာဝရဘုရားရှေ့၌ ဆိုး
သောသူဖြစ်၍၊ သူကိုထာဝရဘုရား ကွပ်မျက်
၈ တော်မူ၏၊-ထိုအခါယုဒသည်ဩနန်ကိုခေါ်ပြီး
လျှင်၊ သင်၏အစ်ကိုမယားထံသို့ဝင်၍၊ သူနှင့်
အိမ်ထောင်ဖက် ပြုသဖြင့်၊ အစ်ကို အမျိုးကို
ဆက်နွယ်လော့ဟုဆို၏၊-ဩနန်သည်ထိုအမျိုးကို

ရလျှင်မူကား၊ မိမိသားမမှတ်ရဟုထိ၍၊ အစ်ကို
အားသားကို မပေးလိုဘဲ၊ အစ်ကိုမထားထံသို့
ဝင်သောအခါ၊ သုတ်ရည်ကို ထုတ်၍ စွန့်ထေ
၁၀ ၏။- ထိုအမှုကိုထာဝရဘုရားနှစ်သက်တော်မမူ
သဘွကြောင့်၊ ဩနန်ကိုလည်းကွပ်မျက်တော်
၁၁ မူ၏။- သားငယ်ရှေလသည် အစ်ကိုတို့ သေသ
ကဲ့သို့သေမည်ဟု၊ ယုဒသည်စိုးရိမ်၍၊ မိမိချွေး
မတာမာကိုခေါ်ပြီးလျှင်၊ သားရှေလပကြီး၍၊
သင်သည်သင့်အဖ၏အိမ်၌ မုဆိုးမပြု၍နေပါ
ဟုဆိုသည်အတိုင်း၊ တာမာသွား၍ မိမိအဖ၏
အိမ်၌နေလေ၏။
၁၂ ကာလအင်တန်ကြာလေသော်၊ ရှုအာသျှီးဖြစ်
သောယုဒမယားထည်းသေလေ၏။ ယုဒသည်
နှစ်သိမ့်ပြီးမှ၊ မိမိသိုးမွေးညှပ်သောသူတို့ရှိရာ၊
တိမနတ်မြို့သို့မိမိအဆွေအဒုလံအမျိုး၊ ဟိရနှင့်
၁၃ အတူသွားလေ၏။- မိမိယောက္ခမသည်သိုးမွေး
ကိုညှပ်ခြင်းငှါ၊တိမနတ်မြို့သို့သွားကြောင်းကို
၁၄ တာမာကြားလျှင်၊- မုဆိုးမအဝတ်ကိုချွတ်၍၊
မျက်နှာဖုံး နှင့် မျက်နှာကိုဖုံးလျှက်၊ ကိုယ်ကို
ထည်းချုံရုံလျှက်၊ တိမနတ် မြို့ သို့ သွား သော
ထစ်းအနား၊ ဧနိမ်မြို့တံခါးဝ၌ထိုင်နေလေ၏။
အကြောင်းမူကား၊ ရှေလကြီးသော်လည်း၊မိမိ
နှင့် အိမ်ထောင်ဖက်မ ပြု ရ ဟု သိ မြင် သော
၁၅ ကြောင့်တည်း။- ယုဒသည်ထိုမိမ့ကို မြင်သော
အခါ၊ သူသည် မိမိမျက်နှာကိုဖုံး၍ နေသော
ကြောင့်၊ ပြည်တန်ဆာဖြစ်သည်ဟု ထင် မှတ်
၁၆ လျှက်၊- လမ်းကိုလွှဲ၍အနားသို့ချဉ်းပြီးလျှင်၊
သင့်ထံသို့ ငါဝင်ရသောအခွင့် ကိုပေးပါလော့
ဟုဆိုလေသော်၊မိမ္မကား၊ သင်သည် ကျွန်မ ထံသို့
ဝင်လိုသောငှါ၊အဘယ်ဆုကိုပေးပည်နည်းဟု
၁၇ မေးလျှင်၊- ယုဒက၊ ဆိတ်သငယ်ကိုပေးလိုက်
မည်ဟုဆိုလေ၏။ မိမ္မကထည်း၊ မပေးလိုက်မှီ
တစုံတခုသောအရာကိုပေါင်ထားမည်လောဟု
၁၈ မေးလျှင်၊-ယုဒက၊အဘယ်အရာကိုပေါင်စေချင်
သနည်းဟု ပြန်၍မေးလေသော်၊ မိမ္မက၊ သင်၏
တံဆိပ်၊စလွယ်၊ထတ်စွဲတောင်ဝေးတို့ကိုပေါင်
လော့ဟုဆိုသည်အတိုင်း၊ထိုဥစ္စာကိုအပ်၍မိမ္မ
ထံသို့ဝင်သဖြင့်၊သူသည်ပဋိသန္ဓေစွဲယူလေ၏။-
၁၉ ထိုနောက်မှ၊ မိမ္မသည်ထသွား၍မျက်နှာဖုံးကို
ချွတ်ပြီးလျှင်၊ မုဆိုးမအဝတ်ကိုဝတ်မြဲဝတ်ပြန်
၂၀ လေ၏။-ယုဒသည်မိမ္မ၌ပေါင်သောဥစ္စာကိုရွေး
ယူခြင်းငှါ၊ မိမိအဆွေ၊ အဒုလံအမျိုးသားတွင်
ဆိတ်သငယ်ကိုပေးလိုက်၏။အဒုလံအမျိုးသား
၂၁ သည်ထိုမိမ္မကိုမတွေ့လျှင်၊- ဧနိမ်မြို့ ထစ်းနား
မှာထိုင်နေသော ပြည်တန်ဆာမသည် အဘယ်
မှာ ရှိသ နည်း ဟု၊ ထိုအရပ် သား တို့ကို မေး
လေ သော်၊ အရပ် သား တို့က၊ ဤ အ ရပ်၌
၂၂ ပြည်တန်ဆာမ မရှိဟုဆိုကြလျှင်၊- ယုဒထံသို့
ပြန်၍၊ကျွန်ုပ်သည်ထိုမိမ္မကိုရှာ၍မတွေ့။ အရပ်
သားတို့ကထည်း၊ ဤအရပ်၌ ပြည်တန်ဆာမ
၂၃ မရှိဟု ဆိုကြောင်းကို ပြော လေ ၏။- ယုဒ က
ထည်း၊ ကျွန်ုပ်တို့သည် အ ရှက် မ ကွဲ မည် အ
ကြောင်း၊ ယူပါလေစေ။ကြည့်ပါ။ ဤဆိတ် သ
ငယ်ကိုကျွန်ုပ်ပေးလိုက်၍၊ သင်သည်မိမ္မကိုရှာ
၍မတွေ့ပါတကားဟု ဆို၏။
၂၄ ထိုနောက်သုံးလခန့်လွန်သည်ရှိသော်၊သူတ
ပါးက၊သင်၏ချွေးမတာမာသည် ပြည်တန်ဆာ
လုပ်၍၊မတရားသောမေထုန်ပြုသဖြင့်၊ကိုယ်ဝန်
ဆောင်လျှက် နေပြီတကားဟု၊ ယုဒအားပြော
ဆိုလျှင်၊ယုဒက၊ သူကိုထုတ်၍ မီးရှို့စေဟုမိန့်
၂၅ လေ၏။-ထုတ်သောအခါ၊တာမာသည်တံဆိပ်၊
စလွယ်၊တောင်ဝေးတို့ကိုယောက္ခမထံသို့ပို့စေ
၍၊ဤဥစ္စာကိုပိုင်သောသူအားဖြင့်ကျွန်မသည်
ပဋိသန္ဓေယူပြီ။ ဤဥစ္စာတို့သည် အဘယ်သူ၏
ဥစ္စာဖြစ်သည်ကို ကြည့်ပါလော့ဟု မှာလိုက်
၂၆ ၏။- ထိုဥစ္စာကိုယုဒမှတ်မိ၍၊ သူ၏အဖြစ်ထက်
ငါ့အပြစ်သာ၍ကြီးပေ၏။ သူ့အား ငါ့သားရှေလ
ကိုငါမပေးစားဘဲနေမိပြီဟုပြောဆို၏။ နောက်
တဖန်သူကိုမချဉ်းမကပ်ဘဲနေ၏။
၂၇ ထိုနောက်တာမာသည် သား ဖွားမြင်ရောက်
၂၈ လျှင်၊ဝမ်းထဲတွင်သားနှစ်ယောက်ရှိ၏။- ဖွား
စဉ်တွင် သားတယောက်သည် လက်ကိုထုတ်
အန့်၍၊ ဝမ်းဆွဲက ဤသူသည် အရင်ဖွားလိမ့်
မည်ဟုဆိုလျှက်၊ လက်ကိုကိုင်၍ နီသောကြိုး
၂၉ နှင့်စည်းလေ၏။-သို့သော်လည်းထိုသူသည်မိမိ
လက်ကို ရုပ်ပြန်၍၊ သူ့အစ်ကို ဖွား လည် ကို
ဝမ်းဆွဲက၊သင်သည်အဘယ်ကြောင့်အနိုင်အ
ထက်ပြုရသနည်း။အနိုင်အထက်ပြုသောဤအ
မှုသည် သင်၌စွဲစေဟုဆိုလျှက်၊ သူကိုဖာရက်
၃၀ အမည်ဖြင့်မှည့်လေ၏။- ထိုနောက် မှ လက်၌
ကြိုးနီစည်းသောညီဖွား၍၊ သူကိုဇာရ အမည်
ဖြင့်မှည့်သတည်း။

၃၉

၁ ယောသပ်ကို အဲဂုတ္တုပြည်သို့ ဆောင်

သွား၍၊ အဲဂုတ္တုပြည်သို့ရောက်သောအခါ၊ အဲ
ဂုတ္တုအမျိုးသား၊ ဖာရော ဘုရင် ၏ အမတ်ဖြစ်
သော ကိုယ်ရံတော်မှူးပေါတိဖာထံမှာ ရောင်း
၂ ဖြစ်၏။-ထာဝရဘုရားသည်ယောသပ်ဘက်၌ရှိ
တော်မူသဖြင့်၊ သူသည်အကြံထမြောက်တတ်
၏။ အဲဂုတ္တုအမျိုးသားမိမိသခင်၏အိမ်၌ နေရ
၃ ထေ၏။-သူ့ဘက်၌ထာဝရဘုရားသည်ရှိတော်မူ
၍၊ သူပြုသမျှရာ၌အောင်စေတော်မူကြောင်း
၄ ကိုသခင်သည်။ သိမြင်၏။- ထို ကြောင့် ယော
သပ်သည်သခင်ရှေ့၌ မျက်နှာရ ၍ ခစားလျက်
နေရ၏။ သခင်သည်လည်း မိမိအိမ် တွင် အိမ်
အုပ်အရာနှင့် ခန့်ထား၍၊ ဥစ္စာရှိသမျှကိုအပ်
၅ ထေ၏။- ထိုသို့အိမ်နှင့်ဥစ္စာရှိသမျှ ကို အုပ်စိုး
စေသည် ကာလမှ စ ၍၊ ထာဝရ ဘုရား သည်
ယောသပ်အတွက်၊ ထိုအဲဂုတ္တုသား၏ အိမ်ကို
ကောင်းကြီးပေးတော် မူ သ ဖြင့်၊ ပေး တော် မူ
သောကောင်းကြီးမင်္ဂလာသည်၊ အတွင်း၊ ပြင်၊
ဥစ္စာရှိရှိသမျှ အပေါ်မှာ လည်း သက် ရောက်
၆ ထေ၏။- သခင်သည် မိမိ၌ရှိသမျှကို ယောသပ်
ထက်သို့အပ်၍၊ မိမိစားသောအစာမှတပါး၊ အ
ခြားသောဥစ္စာရှိမှန်းကိုမျှ မသိမမှတ်ဘဲ နေ၏။
ယောသပ်သည်ပုံပြင်လည်ကျေး၍၊ အဆွေးအ
ဆင်းလည်းလှသောသူဖြစ်၏။
၇ ထိုနောက်မှ သခင်၏မယားသည် ယောသပ်
ကိုထပ်သောစိတ်ရှိ၍၊ ငါနှင့်အတူ အိပ်ပါဟု
၈ ဆို၏။- ယောသပ် ကလည်း၊ ကျွန်တော်သခင်
သည် အိမ် တော် ၌ ရှိ သမျှသော ဥစ္စာ ထိုကို
ကျွန်တော်ထက်သို့ အပ်ပါပြီ။ ကျွန်တော်၌ အ
၉ ထယ်ဥစ္စာရှိမှန်းကိုမျှ မသိမမှတ်ပါ။- ဤအိမ်
တွင်လည်းကျွန်ုပ်ထက်သာ၍ကြီးသောသူ
မရှိပါ။ ကိုယ်မယား ဖြစ်သောသခင်မှတပါး၊
အထယ်အရာကိုမျှ ကျွန်တော်အား မမြစ်တား
ပါ။ သို့ဖြစ်လျှင်၊ အပြစ်ကြီးသောဤအမှုကိုကျွန်
တော်ပြု၍၊ ဘုရားသခင်ကိုအထယ်သို့ပြစ်မှား
နိုင်သနည်းဟု၊ သခင်၏မယားကိုငြင်း၍ပြန်ဆို
၁၀ ၏။- ထိုသို့သခင်မသည် နေ့တိုင်း သွေး ဆောင်
သော်လည်း၊ ယောသပ်သည် သူ၏ စကားကို
နားမထောင်၊ သူနှင့်အတူအိပ်ခြင်း၊ နေခြင်းအ
၁၁ မှုကိုရှောင်ထေ၏။- တနေ့သ၌ယောသပ်သည်
အမှုဆောင်ခြင်းငှါအိမ်ထဲသို့ဝင်၍၊ အိမ်သား
၁၂ ယောကျ်ားတယောက်မျှ မရှိသောအခါ၊- သ
ခင်မက၊ ငါနှင့်အတူအိပ်ပါဟုဆိုလျက်၊ ယော
သပ်အဝတ်ကို ကိုင်ဆွဲလျှင်၊ ယောသပ် သည်
မိမိ အဝတ်ကိုစွန့်၍ ပြင်သို့ထွက်ပြေး ထေ၏။-
၁၃ ထိုသို့သခင်မထက်၌မိမိအဝတ်ကိုစွန့်၍ပြင်သို့
ထွက်ပြေးသည်ကို သခင်မထိမြင်သော အခါ၊-
၁၄ အိမ်သားတို့ကိုခေါ်၍၊ သင်တို့ကြည့်
ကြ၊ ငါတို့၌မရိုမသေပြုစေခြင်းငှါ၊ ဤဟေဗြဲလူ
ကိုသခင် သွင်းထားပြီတကား။ သူသည် ငါနှင့်
အတူ အိပ်ခြင်းငှါ ဝင်လာ၍၊ ငါသည် ကျယ်
၁၅ သော အသံနှင့် အော်ဟစ် ရ၏။- ကျယ်ကျယ်
အော်ဟစ်သံကိုကြားလျှင်၊ သူသည်မိမိအဝတ်
ကိုစွန့်၍၊ ပြင်သို့ထွက်ပြေးသည်ဟုဆိုပြီးလျှင်၊-
၁၆ သခင်ရောက်သည်တိုင်အောင်ထိုအဝတ်ကိုမိမိ
၁၇ ၌ထားထေ၏။- သခင်ရောက်သောအခါ ကိုယ်
တော်သွင်းထားသော ဟေဗြဲ ကျွန်သည် ကျွန်ုပ်
၁၈ ကို မရိုမသေ ပြုခြင်းငှါ ဝင်လာပါ၏။- ကျွန်ုပ်
သည် ကျယ်သောအသံနှင့် အော်ဟစ်သောအ
ခါ၊ သူသည် မိမိအဝတ်ကို စွန့်၍ ပြင်သို့ထွက်
ပြေးပါသည်ဟုသောစကားဖြင့် ကြားပြောသော
၁၉ ၏။- ကိုယ်တော်၏ကျွန်သည်ကျွန်ုပ်၌ ဤသို့ပြုပါ
ပြီဟု မယားပြောသောစကားကို သခင်ကြား
၂၀ လျှင်၊ ယောသပ်ကိုအမျက်ထွက်၍၊- ရှင်ဘုရင်
၏ ရှင်ဘုရင် ချုပ်ထားသော လူတို့နေရာထောင်
ထဲမှာ လှောင် ထား သဖြင့်၊ ယော သပ် သည်
၂၁ ထောင်ထဲမှာနေရ၏။- သို့သော်သည်။ ထာဝရ
ဘုရားသည်သူ့ဘက်၌ရှိ၍၊ ကယ်မသနားတော်
မူသဖြင့်၊ ထောင်မှူးထံမျက်နှာရစေတော်မူ၏။-
၂၂ ထိုဖြစ်၍ ထောင်မှူးသည်၊ ထောင်၌ချုပ်ထား
သောသူအပေါင်းတို့ကိုယောသပ်ထက်သို့အပ်
၍၊ ထောင်ထဲတွင် ပြုသမျှသော အမှုကို ယော
၂၃ သပ် စီရင်ရ၏။- ထို နောက် ထောင် မှူး သည်
ထောင်အမှုကို ကိုယ်တိုင်ပြန်၍မကြည့်မရှုရ၊
အကြောင်းမူကား၊ ထာဝရဘုရားသည် ယော
သပ် ထက်မှာရှိ၍၊ သူပြုသရွေ့ရာ၌ အောင်စေ
တော်မူသတည်း။

၄၀

၁ ထို နောက်မှ အဲဂုတ္တု ရှင် ဘုရင်ထံ စ ထား
တော်ဝန်နှင့်မုန့်တော်ဝန်တို့သည်၊ မိမိတို့အရှင်
၂ အဲဂုတ္တုရှင်ဘုရင်ကိုပြစ်မှားကြ၏။- ဖာရောဘု
ရင်သည်ထိုအမတ်နှစ်ယောက်တည်းဟူသော၊
စထားတော်ဝန်နှင့် မုန့်တော်ဝန်တို့ကို အမျက်
၃ ထွက်၍၊-ယောသပ်အချုပ်ခံရာထောင်တည်း
ဟူသော၊ ကိုယ်ရံတော်မှူး၏အိမ်၌ ချုပ်ထား

၄ တော်မူ၏။ ကိုယ်ရံတော်မှူးသည် သူတို့ကို ယောသပ်၌ အပ်၍၊ ယောသပ်သည်ပြုစုရ၏။ သူတို့သည်၊ အင်တန်ကာလအချုပ်ခံလျက် နေရကြ၏။
၅ ထိုသို့ထောင်ထဲမှာအချုပ်ခံလျက်နေရသော အဲဂုတ္တုမင်းဘုရင်၏ သောက်တော်ဝန်နှင့် စားတော်ဝန် နှစ်ယောက်တို့သည်၊ အသီးအသီး မိမိ တို့ ကိုယ်စီဆိုင်သော အနက်နှင့် ပြည့်စုံသော အိပ်မက်ကို၊ တညည်း ချင်းတွင် တယောက် တ
၆ နည်းစီ မြင်မက်ကြ၏။ နံနက်အချိန် ရောက်မှ၊ ယောသပ်သည်သူတို့ထံသို့ဝင်၍၊ကြည့်ရှုသော
၇ အခါ၊ သူတို့ရှုတ်နှာညှိုးငယ်လျက် ရှိသည်ကို မြင်လျှင်၊– သင်တို့သည်ယနေ့အဘယ်ကြောင့် ရှုတ်နှာ ညှိုးငယ်သနည်းဟု၊ မိမိသခင်အိမ်၌ မိမိနှင့်အတူ အချုပ်ခံနေရသော ဖာရောမင်း၏
၈ အမတ်တို့အားမေး၏။– သူတို့ကလည်း၊ ငါတို့ သည်အိပ်မက်ကိုမြင်ရပြီ။အနက်ကိုဖော်နိုင်သော သူမရှိဟု ဆိုကြသော်၊ ယောသပ်က၊ အိပ်မက်အ နက်များတို့ ဘုရားသခင် ဆိုင်တော်မူသည် မ ဟုတ်သလော၊ သို့ဖြစ်၍သင်တို့အိပ်မက်ကို ကျွန်ုပ်
၉ အားကြားပြောကြပါဟုဆို၏။– ထိုအခါသောက် တော်ဝန်သည်၊ မိမိအိပ်မက်ကို ယောသပ် အား ကြားပြောသည်ကား၊ ငါမြင်မက်သောအိပ်မက်
၁၀ တွင်၊ ရှေ့မှာစပျစ်နွယ်ပင်ရှိ၏။– ထိုစပျစ်နွယ် ပင်၌ အခက် သုံးခက်ရှိ၏။ ထိုအခက် တို့၌ ပန်းပုံကဲ့သို့ရှိ၏။ အပွင့်ထွက်၍၊ ပွင့်၏။ အသီးမှည့်
၁၁ ထိုသည်။ မှည့်သော စပျစ်သီး ဖြစ်လေ၏။– ဖာ ရောမင်း၏ ဖလားတော်ကို ငါကိုင်လျက်၊ ထိုစ ပျစ်သီးကိုယူ၍ ဖလားတော်၌ ညှစ်ပြီးမှ၊ ထက်
၁၂ တော်တွင်ဆက်သည်ဟုပြောဆို၏။–ယောသပ် ကလည်း၊ သင်၏အိပ်မက် အနက် ဟူမူကား၊ စ
၁၃ ပျစ်နွယ်သုံးခက်တို့သည်သုံးရက်ဖြစ်၏။– သုံး ရက် လွန်မှ ဖာရောမင်းသည် သင်၏ ဥက္ကောင်း ကို ချီးမြှောက်၍၊ သင်၏အရာကို ပြန်ပေးတော် မူသဖြင့်၊ သင်သည်အထက်ကဖလားတော်ဝန် ဖြစ်၍၊ ပြုသည့်နည်းတူ၊ တဖန်ဖလားတော် ကိုဖာရောမင်း၏ ထက်တွင်ဆက်ဖြီဆက်ရလိမ့်
၁၄ မည်။– သင်သည်ချမ်းသာရသောအခါ၊ ကျွန်ုပ် ကိုအောက်မေ့၍ကျေးဇူးပြုပါလော့။ဖာရောဘု ရင်ကိုလျှောက်၍၊ ကျွန်ုပ်ကို ဤအိမ်မှ နှုတ်ယူ
၁၅ ပါ။– အကယ်စင်စစ် ကျွန်ုပ်ကိုဟေဗြဲပြည်မှမိုး ယူခဲ့ကြ၏။ ဤပြည်မှာလည်းကျွန်ုပ်၌အပြစ်မရှိ
ထဲ၊ ထောင်ထဲမှာ ချောင်ထားကြသည်ဟု ဆို လေ၏။
၁၆ ထိုအိပ်မက်အနက်ကောင်းသည်ကို စားတော် ဝန်သိမြင်လျှင်၊ ငါသည်လည်း၊မွှေသောတောင်း သုံးလုံးကို ကိုယ်တိုင် ရွက်နေသည်ကိုမြင်မက်
၁၇ ၏။–အပေါ်တောင်းတွင်၊ဖာရောမင်း၊စားတော် ခေါ်ဘို့ ချက်ပြုတ်သော မုန့်စားမုန့် အမျိုးမျိုး ရှိ၍၊ ငှက်တို့သည်လည်း၊ငါရွက်သောတောင်း
၁၈ ထဲက နှုတ်၍ စားကြသည်ဟု၊ ယောသပ် အား ပြောဆို၏။– ယောသပ်ကလည်း၊သင်၏အိပ်မက် အနက်ဟူမူကား၊တောင်းသုံးလုံးသည်သုံးရက်
၁၉ ဖြစ်၏။–သုံးရက်လွန်မှဖာရောမင်းသည်၊သင်၏ ဥက္ကောင်းကိုကိုယ်နှင့် ခွာမြှောက်လျက်၊ သစ် ပင်၌ဆွဲထားတော်မူ၍၊ ငှက်တို့သည်သင်၏အ သားကိုနှုတ်၍စားကြလိမ့်မည်ဟုပြန်ပြော၏။
၂၀ ထိုနောက်၊ သုံးရက်လွန်သောအခါ၊ ဖာရော မင်းဖွားသောနေ့ရက်၌ နှစ်စည်ပွဲကိုခံ၍၊ ကျွန် တော်မျိုးအပေါင်းတို့ကို ကျွေးမွေးတော်မူစည် တွင်၊ဖလားတော်ဝန်၏ဥက္ကောင်းနှင့်၊စားတော် ဝန်၏ဥက္ကောင်းကို၊ ကျွန်တော်မျိုးတို့တွင် ဖော်
၂၁ တော်မူ၍၊– အိပ်မက်အနက်ကို ယောသပ် ဖော် ထည့်အတိုင်း၊ ဖလားတော်ဝန်ကို၊ အထက်အ ရာ၌ တဖန်ခန့်ထားတော်မူသဖြင့်၊ သူသည်ဖ လားတော်ကို ဖာရောမင်း၏လက်တွင် ဆက်ဖြ
၂၂ ဆက်ရ၏။– စားတော်ဝန်ကိုမူကား၊ ဆွဲထား
၂၃ တော်မူ၏။– သို့သော်လည်း၊ ဖလားတော် ဝန် သည် ယောသပ်ကိုမအောက်မေ့ဘဲ၊ မေ့လျော့ ၍နေလေ၏။

၄၁

၁ ထိုနောက်နှစ်နှစ်လွန်သောအခါ၊ဖာရောမင်း သည် အိပ်မက်ကိုမြင်မက်သည်ကား၊ မိမိသည်
၂ မြစ်နားဌ်ရပ်နေ၏။– အဆင်းလှ၍ဝသောနွားရ နှစ်းကောင်တို့သည် မြစ်ထဲကထွက်၍၊ မြစ်နား မှာပေါက်သောမြက်ပင်ကိုစားလျက်နေကြ၏။–
၃ ထိုနွားတို့နောက်မှအဆင်းမလှ၊ပိန်သောနွားရ နှစ်ကောင်တို့သည်မြစ်ထဲကထွက်၍၊အရင်နွား
၄ တို့အနား၌ကမ်းပေါ်မှာရပ်နေကြ၏။– အဆင်း မလှ၊ ပိန်သော နွားတို့သည်၊ အဆင်းလှ၍ ဝ သော နွားရနှစ်ကောင်တို့ကို ကိုက်စား ကြ၏။
၅ ဖာရောမင်းလည်း နိုးလေ၏။– တဖန်အိပ်ပြန် ၍၊ အိပ်မက်ကိုမြင်မက် ပြန်သည်ကား၊ အလုံး ကြီး၍ ကောင်းသောစပါးရှုနှစ် ၇ ထိုသည်စပါး

၆ တပင်တည်း၌ ဖြစ်ကြ၏။— ထိုနောက်မှ အလုံး
သေး၍၊ အရှေ့လေဖြင့်ဖျက်သော စပါးနှံခုနစ်နှံ
၇ တို့သည်ပေါက်ကြ၏။— အလုံးသေးသောစပါး
နှံခုနစ်နှံတို့သည်၊ အလုံးကြီး၍ ကောင်းသော စ
ပါးနှံ ခုနစ်နှံတို့ကိုစားကြ၏။ ဖာရောမင်းသည်
နိုး၍ အိပ်မက်ဖြစ်သည်ကိုသိလေ၏။
၈ နံနက်အချိန်ရောက်သောအခါ၊ ဖာရောမင်း
သည်စိတ်ပူပန်၍၊ အဲဂုတ္တုဗေဒင်တတ်ပညာရှိ
အပေါင်းတို့ကို ခေါ်၍၊ အိပ်မက်တော်ကို ပြန်
ကြားတော်မူ၏။ သို့သော်လည်း၊ ရှေ့တော်၌အ
၉ နက်ကိုဖတ်နိုင်သောသူတယောက်မျှမရှိ။— ထို
အခါစားတော်ဝန်က၊ ကျွန်တော်သည်ကိုယ်
၁၀ အပြစ်ကိုယနေ့အောက်မေ့ပါ၏။— ဖာရောဘုရင်
သည် ကျွန်တော်နှင့် စားတော်ဝန်ကို အမျက်
ထွက်၍၊ ကိုယ်ရံတော် မှူး အိမ်၌ ချုပ်ထား
၁၁ တော်မူသောအခါ၊— ကျွန်တော်တို့နှစ်ယောက်
သည်၊ အသီးအသီးမိမိတို့ကိုယ်မိဆိုင်သောအ
နက်နှင့် ပြည့်စုံသော အိပ်မက်ကို၊ တညည့်ချင်း
၁၂ တွင်မြင်မက်ကြပါ၏။— ကျွန်တော်တို့၌ ကိုယ်ရံ
တော်မှူး၏ ကျွန်ဟေဗြဲလုလင် တယောက်ရှိ၏။
ထိုသူအားကျွန်တော်တို့သည်ကြားပြော၍၊ သူ
သည်အိပ်မက်၏အနက်ကိုဖတ်ပါ၏၊ တယောက်
၁၃ စီမြင်မက်သည်အတိုင်းဖတ်ပါ၏။— ဖတ်သည်
အတိုင်းလည်းမှန်ပါ၏။ ကျွန်တော်သည်အရင်
အရာကိုရပြန်၍၊ စားတော်ဝန်မူကား၊ ဆွဲထား
ခြင်းကိုခံရပါသည်ဟုလျှောက်လေ၏။
၁၄ ထိုအခါ ဖာရောမင်းသည် လူကိုစေလွှတ်၍၊
ယောသပ်ကို ခေါ်တော်မူ၏။ ယောသပ် သည်
ထောင် ထဲက အလျင် အမြန် ထွက် ရ၍၊ မုတ်
ဆိတ်ညှပ်ခြင်း၊ အဝတ်လဲခြင်းကိုပြုပြီးမှ၊ အထံ
၁၅ တော်သို့ ဝင်ရ၏။— ဖာရော မင်းက လည်း၊ ငါ
သည်အိပ်မက်ကိုမြင်မက်ပြီ၊ အနက်ကိုအဘယ်
သူမျှမဖတ်နိုင်။ သင်သည်အိပ်မက်ကို နားထည်
သော ညာဏ် နှင့် အနက် ဖတ် နိုင် သည်ကို ငါ
၁၆ ကြားရပြီဟုဆို၏။— ယောသပ်ကလည်း၊ ကျွန်
တော်သည်အလိုအလျောက်မတတ်နိုင်ပါ။ ဘု
ရားသခင်သည် မင်္ဂလာအဖြေစကားကိုဖာရော
ဘုရင်အား ပေးတော်မူပါစေသောဟု လျှောက်
၁၇ လေ၏။— ဖာရောမင်းကလည်း၊ ငါမြင်မက်သည်
၁၈ မှာ၊ မြစ်နား၌ငါရပ်နေ၏။— အဆင်းလှ၍ဝသော
နွားခုနစ်ကောင်တို့သည်မြစ်ထဲကထွက်၍၊ မြစ်
နားမှာပေါက်သော မြက်ပင်ကို စားလျက်နေကြ
၁၉ ၏။— ထိုနွားတို့နောက်မှ၊ အဆင်းမလှ၊ ပိန်ကြုံ
သောနွား ခုနစ်ကောင်တို့သည် ထွက်လာကြ
၏။ ထိုမျှလောက်အရုပ်ဆိုးသောနွားတို့ကိုအဲ
ဂုတ္တုပြည် တရှောက်လုံးတွင်၊ တခါမျှမမြင်ရ
၂၀ စဖူး။— အဆင်းမလှ ပိန်သော နွားတို့သည်၊ ဝ
သောအရင်နွားခုနစ်ကောင်တို့ကိုကိုက်စားကြ
၂၁ ၏။— စားပြီးသောနောက်၊ စားမှန်းကိုအဘယ်
သူမျှမသိရ။ အရင်ကဲ့သို့အရုပ်ဆိုးသေး၏။ ငါ
၂၂ သည်နိုး၏။— တဖန်ငါမြင်မက်ပြန်သည်ကား၊
အလုံးကြီး၍ကောင်းသောစပါးခုနစ်နှံတို့သည်
၂၃ စပါးတပင်တည်း၌ဖြစ်ကြ၏။— ထိုနောက်မှညှိုး
နွမ်းလျက် အလုံးသေး၍၊ အရှေ့လေဖြင့်ဖျက်
၂၄ သောစပါးခုနစ်နှံတို့သည်ပေါက်ကြ၏။— အလုံး
သေးသောစပါးနှံတို့သည်၊ ကောင်းသောစပါး
ခုနစ်နှံ တို့ကို စားကြ၏။ ထို အိပ်မက်ကို ဗေဒင်
တတ် တို့အား ငါ ကြားပြော၍၊ အနက်ကို အ
ဘယ်သူမျှမဖတ်နိုင်ဟု၊ ယောသပ်အား ပြော
ဆိုတော်မူ၏။
၂၅ ယောသပ်ကလည်း၊ ဖာရောဘုရင် မြင်မက်
တော်မူသောအိပ်မက်ကား၊ တပါးတည်းဖြစ်ပါ
၏။ ဘုရားသခင်ပြုလတံ့သောအမှုကိုဖာရောဘု
၂၆ ရင်အားပြတော်မူပြီ။— ကောင်းသောနွားခုနစ်
ကောင်တို့သည်ခုနစ်နှစ်ဖြစ်ပါ၏။ ကောင်းသော
စပါးခုနစ်နှံတို့သည်လည်း၊ ခုနစ်နှစ်ဖြစ်ပါ၏။
၂၇ အိပ်မက်တော်ကားတပါးတည်းဖြစ်ပါ၏။— ထိုနွား
တို့နောက်ထွက်လာသောနွား၊ ပိန်၍ အရုပ်ဆိုး
သောနွားခုနစ်ကောင်တို့သည်၊ ခုနစ်နှစ်ဖြစ်ပါ
၏။ အရှေ့လေဖြင့်ဖျက်သောစပါးဖျင်းခုနစ်နှံတို့
သည်လည်း၊ အစာခေါင်းပါးသောခုနစ်နှစ်ဖြစ်
၂၈ ပါ၏။— ဖာရောဘုရင်အား ကျွန်တော်လျှောက်
လိုသော အရာ ဟူမူကား၊ ဘုရားသခင်ပြုလတံ့
၂၉ သောအမှုကိုဖာရောဘုရင်အားပြတော်မူ၏။— အဲ
ဂုတ္တုပြည်တရှောက်လုံးတွင်၊ ဝပြောသောနှစ်
၃၀ ခုနစ်နှစ်ရှိလိမ့်မည်။— ထိုနောက်မှအစာခေါင်း
ပါးသောနှစ်ခုနစ်နှစ်ပေါ်လာ၍၊ အဲဂုတ္တုပြည်၌
အလုံးစုံသောဝပြောခြင်းသည်တိမ်မြုပ်လျက်၊
အစာခေါင်းပါးခြင်းအားဖြင့် တပြည်လုံးပျက်
၃၁ စီးလိမ့်မည်။— အစာခေါင်းပါးခြင်းသည်အလွန်
အားကြီး သောကြောင့်၊ အရင် ဝပြော ခြင်း၏
၃၂ လက္ခဏာမထင်ရ။— ဖာရောဘုရင်သည် ထပ်၍
အိပ်မက်မြင်ရသည်အရာမှာ၊ ထိုအမှုကိုဘုရားသ
ခင် မြဲမြဲခိုင်ခံ့စေ၍၊ အလျင်အမြန် စီရင်တော်မူ

၃၃ ထိုမှတပါး- သို့ဖြစ်၍ဘုရင်မင်းကြီးသည် ဉာဏ်
ပညာနှင့် ပြည့်စုံသော သူကို ရွေး ချယ်၍၊ အဲ
၃၄ ဂုတ္တုပြည်ကို အုပ်စိုးစေတော်မူပါ။- ခန့်ထား
တော်မူသော သူထည်းထည်း၊ တပြည်လုံး၌ အ
ကြီးအကြပ်တို့ကို ခန့်ထား၍၊ ဝပြောသောနှစ်
ခုနှစ် နှစ် ပတ်လုံး တပြည် လုံးတွင် ငါးပုံ တပုံ
၃၅ ကောက်ယူကြပါစေ။- ထိုသူတို့သည်ဖြစ်လတ္တံ့
သောမင်္ဂလာနှစ်တို့တွင်၊ ရိက္ခာရှိသမျှကို စုရုံး
၍၊ ဘုရင်မင်းတော်၌စပါးများကို ဆည်း
ဖူးကြပါစေ၊ မြို့ရွာ၌ထည်း ရိက္ခာကိုသိုထား
၃၆ ကြပါစေ။-သို့ဖြစ်၍၊ အဲဂုတ္တုပြည်၌ အစာခေါင်း
ပါးသောနှစ်ခုနှစ်နှစ်ရောက်သောအခါ၊ ပြည်သူ
ပြည်သားတို့အစာရှိသိုထားလျက်ရှိနှင့်၍၊ အ
စာခေါင်းပါးသောကာလတွင်ပြည်တော်မပျက်
ရဟု၊ဘုရင်မင်းအားလျှောက်လေ၏။
၃၇ ထိုသို့ယောသပ် လျှောက်သောစကားကိုဘု
ရင်မင်းအစရှိသော ကျွန်တော်မျိုးအပေါင်းတို့
၃၈ သည်နှစ်သက်ကြ၍၊- ဘုရင်မင်းက၊ဘုရားသ
ခင်၏ဝိညာဉ်တော်ကိုရ၍၊ ဤကဲ့သို့သော သူကို
အထယ်မှာရှာ၍ တွေ့မည်နည်းဟု၊ ကျွန်တော်
၃၉ မျိုးတို့အားမိန့်တော်မူ၏။-ယောသပ်အားသဉ်း၊
ဘုရားသခင်သည် ဤအမှု အလုံးစုံ တို့ကို သင့်
အားပြတော်မူသည်ဖြစ်၍၊ သင်ကဲ့သို ဉာဏ်
၄၀ ပညာနှင့် ပြည့်စုံသောသူ မရှိ။- သင်သည်နန်း
တော်အုပ်ဖြစ်ရမည်၊သင်၏စကားအတိုင်းငါ၏
ပြည်သားအပေါင်းတို့ကိုငါစီရင်စေမည်၊ ရာဇ
ပလ္လင်အားဖြင့်သာ၊ငါသည်သင့်ထက်ကြီးမြတ်
၄၁ စည်ဟု မိန့်တော် မူ၏။- တဖန်၊ ကြည့်ပါ၊ အဲ
ဂုတ္တုပြည် တပြည်လုံးကိုသင်အုပ်စိုးစေခြင်းငှါ
ငါ ခန့်ထားပြီဟု၊ ယောသပ် အား မိန့်တော် မူ
၄၂ လျှင်၊- ထံတံဆိပ်တော်ကို ချွတ်၍၊ ယောသပ်
ထံ ထံ၌ စွပ်စေတော်မူ၏၊ ပိတ်ချော အဝတ်ကို
ဝတ်ဆင်စေ၍၊ထည်ပင်း၌ရွှေစလွယ်ကိုဆွဲပြီး
၄၃ လျှင်၊- ဒုတိယရထားတော်ကို စီးစေတော်မူ၏၊
ဒူးထောက်၍ နေကြဟုသူ့ရှေ့မှာ ဟစ်ကြ၏။ ထိုသို့
လျှင် အဲဂုတ္တုပြည် တပြည်လုံးကို အုပ်စိုး စေ
၄၄ တော်မူ၏။- ဘုရင်မင်းကထည်း၊ ငါသည်ဘု
ရင်ဘုရင်မှန်၏၊ သို့ဖြစ်၍သင်၏အခွင့်မရှိလျှင်၊
အဲဂုတ္တုပြည်တရှောက်လုံးတွင်၊ အဘယ်သူမျှ
၄၅ မိမိလက်ခြေကိုမလှုပ်ရဟုမိန့်တော်မူ၏။-ဘုရင်
မင်းသည်ထည်း၊ ဇာဖနတ်ပါနာ ထည်းဟု
ယောသပ် ဘွဲ့နာမနှင့် ယောသပ်ကို မှည့်ခေါ်၍၊
ဩနမြို့၏ ယဇ်ပုရောဟိတ် ပေါတိဖေရ၏ သမီး
အာသနတ် နှင့်စုံဖက်စေတော်မူ၏၊ ထိုသို့ယော
သပ်သည်အဲဂုတ္တုနိုင်ငံအုပ်အရာနှင့်အထံတော်
က ထွက်လေ၏။
၄၆ ယောသပ်သည် အဲဂုတ္တု ရှင်ဘုရင် ဖာရော
မင်းထံ၌အခွင့်ရသောအခါ၊ အသက်အနှစ်သုံး
ဆယ်ရှိသတည်း။ အထံတော်က ထွက်၍၊ အဲ
၄၇ ဂုတ္တုပြည် တရှောက် လုံးသို့ သွားလေ၏။- ဝ
ပြောသောနှစ်ခုနှစ်နှစ်ပတ်လုံး၊ မြေအသီးအနှံ
၄၈ တို့သည်အလွန် များပြားကြ၏။- ခုနှစ်နှစ် ပတ်
လုံးအဲဂုတ္တု ပြည်တွင် ရှိသမျှသော ရိက္ခာကိုစု
ရုံး၍၊ မြို့တို့၌ သိုထားလေ၏၊ မြို့ပတ် ဝန်းကျင်
လယ်တို့၌ ရသော ရိက္ခာကို မြို့အသီးအသီးတို့
၄၉ တွင်သိုထားလေ၏။- စပါးကိုကား၊သမုဒ္ဒရာသဲ
လုံးနှင့်အမျှအလွန်များစွာစုထား၍၊မရေတွက်
နိုင်အောင် များသောကြောင့် မရေတွက်ဘဲနေ
သတည်း။
၅၀ အစာ ခေါင်းပါး သောနှစ် မရောက်မှီ၊ ယော
သပ်သည်ဩနမြို့၏ ယဇ်ပုရောဟိတ်ပေါတိဖေ
ရ၏သမီးအာသနတ်တွင်၊သားနှစ်ယောက်တို့ကို
၅၁ မြင်ရ၏။- သားဦးကိုကား၊ မနာရှေအမည်ဖြင့်
မှည့်လေ၏၊အကြောင်းမူကား၊ငါခံရသမျှသော
ပင်ပန်းခြင်းနှင့်၊ ငါ့အဘ၏အိမ်သားအပေါင်းတို့
ကိုငါမေ့စေခြင်းငှါ၊ဘုရားသခင်ပြုတော်မူပြီဟု
၅၂ ဆိုသတည်း။- နောက်ရသောသားကိုကား၊ ဧ
ဖရိမ်အမည်ဖြင့်မှည့်လေ၏၊အကြောင်းမူကား၊
ဘုရားသခင်သည် ငါဆင်းရဲ ခံရသော ပြည်၌၊
ငါကို ပွားများစေတော်မူပြီဟု ဆိုသတည်း။
၅၃ ထိုနောက်၊ အဲဂုတ္တုပြည်၌ဝပြောသောနှစ်ခု
၅၄ နှစ်နှစ်ကုန်လေ၏။- ယောသပ် ပြောသည် အ
တိုင်း၊ အစာခေါင်းပါးသောနှစ်တို့သည် ရောက်
စရှိ၏၊ ထိုအခါခပ်သိမ်းသော ပြည်တို့၌ အစာ
ခေါင်းပါးခြင်း ရှိသော်လည်း အဲဂုတ္တု ပြည်၌
၅၅ ထန်စပါး ရှိသေး၏။- နောက် တဖန် အဲဂုတ္တု
ပြည်သူပြည်သားအပေါင်းတို့သည် ငတ်သိပ်
သောအခါ၊ စားစရာကို ရပါမည်အကြောင်း၊
ဘုရင်မင်းထံ၌ ကျူးကြော်ကြ၏၊ ဘုရင်မင်း
ကထည်း၊ ယောသပ် ထံသို့ သွားကြ၊ သူစီရင်
သည်အတိုင်းပြုကြဟု၊ အဲဂုတ္တုပြည်သူ ပြည်
၅၆ သားအပေါင်းတို့ကို မိန့်တော်မူ၏။- မြေပြင်တ
ရှောက်လုံး၌အစာခေါင်းပါးသောအခါ၊ ယော
သပ်သည်စပါးကျီ ရှိသမျှ တို့ကိုဖွင့်၍ အဲဂုတ္တု

ထုတ်၍အားရောင်းလေ၏။ထိုအခါ၊အဲဂုတ္တုပြည်
၌ အစည်အတိုင်း အစာခေါင်းပါး သတည်း။-
၅၇ စပ်ဆိမ်းသောပြည်တို့၌လည်း၊ အလွန် အစာ
ခေါင်းပါး သောကြောင့်၊ အသီး အသီး သော
ပြည်သား ထိုသည်၊ စပါးကို ဝယ်ခြင်းငှါ၊ အဲ
ဂုတ္တုပြည်ယောသပ်ထံသို့လာရောက်ကြ၏။

၄၂

၁ အဲဂုတ္တုပြည်၌ စပါးရှိကြောင်းကို ယာကုပ်
ကြား၍သိလျှင်၊သင်တို့သည်အဘယ်ကြောင့် တ
ယောက်ကို တယောက် ကြည့် ရှု၍ နေကြသ
၂ နည်း။- အဲဂုတ္တု ပြည်၌ စပါးရှိကြောင်းကို ငါ
ကြား၍ရပြီ။ ငါတို့သည်မသေ၊ အသက်ရှင်မည်
အကြောင်း၊ ထိုပြည်သို့ သွား၍ ငါတို့ အဖို့ကို
ဝယ်ကြသော်ဟု၊ မိမိသားတို့အား ဆိုသည်အ
၃ တိုင်း၊- ယောသပ်၏ အစ်ကို တကျိပ် တို့သည်
စပါးကိုဝယ်ခြင်းငှါ၊ အဲဂုတ္တုပြည်သို့သွားကြ
၄ ၏။- ယောသပ်၏ညီဗယ်ယာမိန်ကိုကား၊ အစ်ကို
တို့နှင့် အတူ ယာကုပ်သည် မစေ မလွှတ်။ အ
ကြောင်းမူကား၊ သူ၌ ဘေးရောက် ကောင်း
ရောက်လိမ့်မည်ဟု စိုးရိမ်သတည်း။
၅ ထိုအခါ၊ခါနာန်ပြည်၌အစာခေါင်းပါးသော
ကြောင့်၊အဲဂုတ္တုပြည်သို့ရောက်လာသောသူတို့
တွင်၊ ဣသရေလသားတို့သည် စပါးကိုဝယ်
၆ ခြင်းငှါ လာကြ၏။- ယောသပ်သည် နိုင်ငံအုပ်
ဖြစ်၍၊ ပြည်သားအပေါင်းတို့အားရောင်းသော
အမှုကို စီရင်လေ၏။ ယောသပ်အစ်ကို တို့သည်
၇ လာ၍သူ့ရှေ့မှာ ဦးညွှတ်ချ ကြ၏။- ယောသပ်
သည် အစ်ကို တို့ကို မြင်လျှင် သိ၏။ သို့သော်
လည်းမသိဟန်ဆောင်၍၊ ကြမ်းတမ်းစွာပြော
လျက်၊ သင်တို့သည်အဘယ်ကလာကြသနည်း
ဟုမေး၏။ သူတို့ကလည်း၊ အစာကို ဝယ်ခြင်း
ငှါ၊ခါနာန်ပြည်ကလာကြပါသည်ဟု လျှောက်
၈ ကြ၏။- ယောသပ်သည်အစ်ကိုတို့ကို သိသော်
၉ လည်း၊သူတို့သည်ယောသပ်ကိုမသိကြ။-ယော
သပ်သည် သူတို့ အကြောင်း နှင့်၊ မြင် ရ သော
အိပ်မက်တို့ကိုအောက်မေ့လျက်၊သင်တို့သည်သူ
လျှိုဖြစ်ကြ၏။ ပြည်တော်၌ အားနည်းသောအ
ရပ်ကိုကြည့်ရှုခြင်းငှါ လာကြပြီဟု ဆိုလျှင်၊-
၁၀ သူတို့က၊ မဟုတ်ပါသခင်၊ ကိုယ်တော်၏ကျွန်
တို့သည် အစာကို ဝယ်ခြင်းငှါသာ လာကြပါ
၁၁ ၏။-ကျွန်တော်တို့သည်တယောက်တည်းသော
သူ၏သားဖြစ် ကြ ပါ ၏။ ဖြောင့်မတ် သောသူ
တည်းဖြစ်ကြပါ၏။ကိုယ်တော်၏ကျွန်တို့သည်
၁၂ သူလျှိုမဟုတ်ပါဟုလျှောက်ကြ၏။- ယောသပ်
ကသည်။ မဟုတ်ဘူး။ ပြည်တော်၌အားနည်း
သောအရပ်ကို ကြည့်ရှုခြင်းငှါလာကြပြီဟုဆို
၁၃ ပြန်၏။-သူတို့ကလည်း၊ကိုယ်တော်ကျွန်တို့သည်
ခါနာန် ပြည်၌၊ တယောက် တည်း သော သူ၏
သား၊ ညီအစ်ကိုတကျိပ်နှစ်ယောက်ဖြစ်ကြပါ
၏။ အငယ်ဆုံး သောသူ ကား၊ အဘနှင့် အတူ
ယခုရှိရစ် ပါ၏။ တယောက်ကား၊ မရှိပါဟု
၁၄ လျှောက်ပြန်လျှင်၊- ယောသပ်က၊သင်တို့သည်
၁၅ သူလျှိုဖြစ်ကြ၏ဟု ငါဆိုသည်အရာမှာ- သင်
တို့ကိုအဘယ်သို့ စုံစမ်းရမည်နည်းဟူမူကား။
အငယ်ဆုံးသောညီမလာလျှင်၊ ဖာရောဘုရင်အ
သက်ရှင်တော်မူသည်အတိုင်း၊သင်တို့သည်ဤ
၁၆ အရပ်မှမထွက်မသွားရ။-သင်တို့စကားမှန်သဖြင့်
မမှန်သည်ကိုစုံစမ်း၍သိစေခြင်းငှါ၊သင်တို့တွင်
တယောက်သောသူကို စေလွှတ်၍ညီကိုဆောင်
ခဲ့စေ။ ကြွင်းသောသူတို့ကို ထောင်ထဲမှာ ချုပ်ထား
မည်။ သို့မဟုတ်၊ ဖာရောဘုရင်အသက်ရှင်တော်
မူသည်အတိုင်း၊ အကယ်စင်စစ်သင်တို့သည်သူ
၁၇ လျှိုဖြစ်ကြ၏ဟုဆိုပြီးလျှင်၊-အစ်ကိုအပေါင်းတို့
၁၈ ကို သုံးရက်ချုပ်ထားလေ၏။- သုံးရက်မြောက်
သောနေ့၌ယောသပ်သည် သူတို့ကိုခေါ်၍၊ ငါ
သည် ဘုရားသခင်ကိုကြောက်ရွံ့သောသူဖြစ်၏။
သို့ကြောင့် သင်တို့သည်အသက်ချမ်းသာစေခြင်း
၁၉ ငှါပြုရသောအမှုဟူမူကား၊-သင်တို့သည်ဖြောင့်
မတ်သောသူမှန်လျှင်၊ သင်တို့ညီအစ်ကိုတို့တွင်
တစုံတယောက်ကိုထောင်အိမ်၌အချုပ်ခံလျက်
နေစေပြီးလျှင်၊ကြွင်းသောသူတို့မူကား၊သွားကြ
လော့။ အိမ်သူအိမ်သားတို့၌ အစာ ခေါင်းပါး
၂၀ သောကြောင့်၊ စပါးကိုယူ၍သွားကြလော့။- အ
ငယ်ဆုံးသောညီကို ခေါ်သွားဆောင်ခဲ့ကြလော့။
သို့ပြုလျှင်၊ သင်တို့စကားမှန်လိမ့်မည်။ သင်တို့
အသက်လည်း ချမ်းသာရလိမ့်မည်ဟုဆိုသည်
အတိုင်း၊သူတို့သည်ပြုကြ၏။
၂၁ ထိုအခါ သူတို့အချင်းချင်း ဆိုကြသည်ကား။
အကယ်စင်စစ်ငါတို့သည်ညီ၏အမှု၌အပြစ်ကြီး
ကြ၏။ သူသည်ငါတို့ကိုဘောင်းပန်သောအခါ၊
သူစိတ်ဆင်းရဲခြင်းကို ငါတို့သည်မြင်လျက်နှင့်
နား မထောင်ဘဲနေကြ၏။ထိုကြောင့်ဤအမှုသည်
ငါ တို့ အပေါ်မှာ ယခု ရောက် လာပြီဟု၊ အ
၂၂ ယောက်ကိုတယောက်ပြောဆိုကြ၏။- ရုဗင်က

ထည်း၊ သူငယ်ကိုမပြစ်မှားပါနှင့်ဟုကျွန်ုပ်ဆို
သည်မဟုတ်လော၊ သင်တို့သည် နားမထောင်
ဘဲနေကြသောကြောင့်၊ သူ၏အသွေးအတွက်ယ
၂၃ ရုအစစ်ခံရကြသည်ဟုပြန်၍ဆို၏။- ထိုသို့မိမိတို့
ပြောဆိုကြသောစကားကို ယောသပ်နားထည်
သည်ဟု သူတို့ မထင်ကြ၊ အကြောင်းမူကား၊
ယောသပ် သည် စကား ပြန်နှင့် သူတို့ကို ပြော
၂၄ တတ်သောကြောင့်တည်း။-ထိုအခါ၊ယောသပ်
သည်သူတို့ထံမှ ခဏ ခွာ၍ငိုလေ၏၊ တဖန်လာ
ပြန်၍ ချွတ်ဆက်ပြီးလျှင်၊ ရှိမောင်ကိုသူတို့အစု
၂၅ ထဲကယူ၍၊သူတို့ရှေ့တွင်ချည်နှောင်လေ၏။-ထို
နောက်၊ သူတို့အိတ်များကိုစပါးနှင့်ပြည့်စေ၍၊
သူတို့ ငွေကိုလည်း အသီးအသီး အိတ်တို့တွင်
ပြန်ထည့်စေခြင်းငှါရင်၊လမ်းခရီး၌စားစရိတ်ကို
ပေးစေခြင်းငှါရင်စီရင်၍၊ ထိုသို့လျှင်သူတို့၌ပြု
၂၆ လေ၏၊-သူတို့သည်လည်း၊မြည်းများအပေါ်၌စပါး
၂၇ ကိုတင်၍ ထွက်သွားကြ၏၊- စားခန်းသို့ရောက်
သောအခါ၊တယောက်သောသူသည်မြည်းကိုအစာ
ကျွေးခြင်းငှါ မိမိအိတ်ကိုဖွင့်လျှင်၊ အိတ်ဝတွင်
၂၈ ရှိသော ငွေကို မြင်လေ၏။- ညီအစ်ကို တို့အား
လည်း၊ ကျွန်ုပ် ငွေ ကို ပြန် ထားပြီ၊ ကြည့် ပါ၊
အိတ် ထဲမှာ ရှိသည်ဟု ဆိုသော်၊ သူတို့သည်
စိတ်နှစ်လုံးလျော့၍ ကြောက် လန့် လျက်၊ ငါ
တို့၌ ဘုရားသခင်ပြုတော်မူသော ဤအမှုသည်၊
အဘယ်အမှုဖြစ်ပါလိမ့်မည်နည်းဟုတယောက်
ကိုတယောက် ဆိုကြ၏။
၂၉ ခါနာန်ပြည်၊အဘယာကုပ်ထံသို့ရောက်လျှင်၊
မိမိတို့၌ ဖြစ်လေ သမျှ တို့ကို ကြားပြော သည်
၃၀ ကား၊- ထိုပြည်ကိုအုပ်စိုးသောသူသည် ကြမ်း
တမ်းစွာပြောလျက်၊ ကျွန်ုပ်တို့ကို ထိုပြည်၌သူ
၃၁ လျှိုလုပ်သူဟူ၍မှတ်လေ၏။-ကျွန်ုပ်တို့ကလည်း၊
ကျွန်ုပ်တော်တို့သည် ဖြောင့်မတ်သောသူ ဖြစ်ကြ
၃၂ ပါ၏၊သူလျှိုမဟုတ်ပါ။-တဘတည်းသား၊ညီအစ်
ကိုချင်း တကျိပ် နှစ်ယောက် ဖြစ်ကြ ပါ၏၊ တ
ယောက်ကားမရှိပါ၊ အငယ်ဆုံးသောသူကား၊
ခါနာန်ပြည်၌ အဘနှင့်အတူ ယခုရှိရစ်ပါသည်
၃၃ ဟု လျှောက်သော အခါ၊- ထိုပြည်ကို အုပ်စိုး
သောသခင်က၊သင်တို့သည်ဖြောင့်မတ်သောသူ
မှန်သည်ကို အဘယ်သို့ ငါသိနိုင်မည် နည်းဆို
သော်၊သင်တို့ညီအစ်ကိုတို့တွင်တစုံတယောက်
ကို ငါထံ၌ ထားရစ် ကြလော့၊ သင်တို့ အိမ်သူ
အိမ်သားတို့၌အစာငခါင်းပါးသောကြောင့်၊အ
၃၄ စာကိုယူ၍သွားကြလော့၊-အငယ်ဆုံးသောညီ
ကိုငါထံသို့ဆောင်ခဲ့ကြလော့၊ သို့ပြုလျှင်၊သင်တို့
သည် သူလျှိုမဟုတ်၊ ဖြောင့်မတ်သောသူ ဖြစ်
သည်ကိုငါသိလိမ့်မည်၊ သင်တို့ညီ အစ်ကိုကို
လည်း ငါပြန်၍အပ်မည်၊ သင်တို့သည် ပြည်
တော်၌ ဖောက်ကားရောင်းဝယ်ရကြ မည်ဟု၊
၃၅ ဆိုကြောင်းကိုကြားပြောကြပြီးမှ၊-မိမိတို့အိတ်
များအထဲကစပါးကို ထုတ်သောအခါ၊ အသီး
အသီးဆိုင်သော ငွေထုပ်တို့သည် မိမိတို့အိတ်
၌ရှိကြ၏၊ ငွေထုပ်များကို သူတို့နှင့် အဘသည်
၃၆ မြင်သောအခါကြောက် လန့်ကြ၏။- အဘယာ
ကုပ်ကလည်း၊ သင်တို့သည်ငါ့သားတို့ကိုယူ
ကြပြီ၊ယောသပ်မရှိ၊ရှိမောင်မရှိ၊ ဗင်္ယာမိန်ကို
လည်းယူသွားချင်သည်တကား၊ဤအမှုအလုံးစုံ
တို့သည်ငါနှင့်ဆန့်ကျင်ဘက်ဖြစ်သည် တကား
၃၇ ဟု သူတို့အားဆို၏၊- ရုဗင် ကလည်း၊ ကျွန်ုပ်
သည်ဗင်္ယာမိန်ကို အဘထံသို့ ပြန်၍ မဆောင်ခဲ့
လျှင်၊ ကျွန်ုပ်သား နှစ်ယောက် တို့ကို သတ်ပါ
လော့၊သူကိုကျွန်ုပ်လက်၌အပ်ပါ၊ကျွန်ုပ်တဖန်
အဘထံသို့ပြန်၍ ဆောင်ခဲ့ပါမည်ဟု အဘအား
၃၈ ဆို၏။- အဘကလည်း၊ သင်တို့နှင့်အတူငါ့သား
မသွားရ၊ သူ၏ အစ်ကို သေ ပြီ၊ သူ သည် တ
ယောက်တည်းကျန်ရစ်၏၊သင်တို့သွားရာလမ်း
ခရီးတွင်သူ၌ ဘေးရောက်လျှင်၊ သင်တို့သည်
ငါ့ဆံပင်ဖြူကို ဝမ်းနည်းခြင်းနှင့်တကွ၊ မရဏာ
နိုင်ငံသို့ သက် ရောက် စေ ကြ လိမ့် မည် ဟု ဆို
လေ၏။

၄၃

၁ ခါနာန် ပြည်၌အလွန်အစာ ခေါင်းပါးသည်
၂ ဖြစ်၍၊- အဲဂုတ္တုပြည်မှဆောင်ခဲ့သောစပါးကို
စားကုန်ပြီးမှ၊ အဘက၊ တဖန်သွား၍ ငါတို့စား
စရာ အနည်းငယ် ကိုဝယ်ကြပါ ဦးဟုဆို၏။-
ယုဒ ကလည်း၊ ထိုသူသည် ကျွန်ုပ်တို့ကို ကြပ်
ကြပ် မြွမ်းခြောက်လျက်၊ သင်တို့ညီ မပါ လျှင်
၃ ငါ့မျက်နှာကိုမမြင်ရဟုပြောထားပြီ၊-ကျွန်ုပ်တို့
ညီကိုထည့်လျှင်၊ သွား၍ အဘစားဖို့ရာ ဝယ်ပါ
၅ မည်။-ညီကိုမထည့်လျှင်မသွားပါ၊အကြောင်း
မူကား၊ ထိုသူက၊သင်တို့ညီမပါလျှင်၊ငါ့မျက်နှာ
ကိုမမြင်ရဟု ပြောထားပြီဟု အဘအား ပြန်ဆို
၆ လေ၏၊- ဣသရေလ ကလည်း၊ သင်တို့၌ ညီရှိ
မှန်းကို ထိုသူအားပြော၍ အဘယ်ကြောင့်ငါ့ကို
၇ ညှဉ်းဆဲကြသနည်းဟု ဆိုရာသော်၊-သူတို့ကား၊ထို

သူသည်ကျွန်ုပ်တို့၏အကြောင်းအရာ၊ အမျိုးအ
နွယ်ထိုက်ကို ကြပ်ကြပ်မေးလျှက်၊ သင်တို့အဘ
အသက်ရှင်သေးသလော၊ညီရှိသေးသလောဟု
မေးသောအခါ၊ ကျွန်ုပ်တို့သည် သူ၏စကားသ
ဘောသို့လိုက်၍ပြန်ပြောရပါ၏။ သင်တို့ညီကို
ဆောင်ခဲ့ကြဟုသူပြောမည်ကို၊ ကျွန်ုပ်တို့သည်
၈ အမှန်သိနိုင်ပါသလောဟုဆိုကြ၏။- ယုဒက
လည်း၊သူငယ်ကိုကျွန်ုပ်နှင့်အတူလွှတ်ပါ။သို့ပြု
လျှင်၊အဘမှစ၍ကျွန်ုပ်တို့နှင့်သူငယ်များတို့သည်
မသေ၊ အသက် ရှင် မည် အကြောင်း၊ ကျွန်ုပ်
၉ တို့ထ၍သွားကြပါမည်။-ကျွန်ုပ်သည်သူ၏အာ
မခံဖြစ်ပါမည်။ကျွန်ုပ်တွင်သူကိုတောင်းပါ။သူ
ကိုပြန်၍မဆောင်၊ အဘရှေ့မှာမထားလျှင်၊ အ
၁၀ စဉ်မပြတ် အပြစ်ကိုခံပါစေ။- ဤမျှလောက်မ
ဆိုင်းမနေလျှင်၊ အကယ်၍ ဒုတိယအကြိမ်တွင်ပြန်
၁၁ ရောက်ပါပြီဟု၊အဘဣသရေလအားဆို၏။-အ
ဘဣသရေလကလည်း၊ သို့ဖြစ်လျှင် ဤသို့ပြုကြ
လော့။ ထိုသူအားဆက်စရာဘို့ သင်တို့အိတ်ဝ
တို့တွင်၊ခါနာန်ပြည်၏အသီးမျိုးအကောင်းဆုံး
တည်းဟူသော၊ ဗထစ်ဆေး အနည်းငယ်၊ ပျား
ရည် အနည်းငယ်၊ နံ့သာမျိုး၊ မုရန်ဆေး၊ သစ်
၁၂ အယ်သီး၊ ဗာတံသီးတို့ကိုယူကြလော့။- သင်
တို့ထက်၌ငွေနှစ်ဆကိုလည်းယူကြလော့။အိတ်
ဝ တွင် ဆောင် ခဲ့ သော ငွေ ကို တ ဖန် ထတ် ၍
ဆောင်သွားကြဦးလော့၊ ထိုအမှုသည် သတိ
၁၃ ထစ်သော အမှု ဖြစ်ဟန် ရှိ၏။- သင်တို့ ညီကို
လည်း ယူ၍၊ တဖန် ထိုသူ ထံသို့ ထသွားကြ
၁၄ လော့။- ထိုသူသည်သင်တို့အစ်ကိုတယောက်
နှင့်ဗယ်ဒါမိန်ကို လွှတ်လိုက် မည် အကြောင်း၊
သင်တို့သည်သူ မိတ်နှင့်တွေ့ရသော အခွင့်ကို၊
အနန္တတန်ခိုးရှင်ဘုရားသခင် ပေးတော်မူပါစေ
သော။ သို့ရာတွင် ငါသည်သားဆုံးခြင်းကို ခံရ
လျှင်ခံရတော့မည်ဟု၊ သားတို့အား ဆိုသည်
၁၅ အတိုင်း။- သူတို့သည် ထိုထက် ဆောင် ကိုရင်၊
မိမိထက်၌ငွေနှစ်ဆကိုရင်၊ဗယ်ဒါမိန်ကိုရင်၊ယူ
၍ ထပြီးလျှင်၊ အဲဂုတ္တုပြည်သို့သွား၍ ယော
သပ်ရှေ့မှာ ရပ်နေကြ၏။
၁၆ သူတို့နှင့်အတူဗယ်ဒါမိန်ပါလာသည်ကိုယော
သပ်မြင်လျှင်၊ဝန်စာရေးကိုခေါ်၍၊ ဤသူတို့ကို
အိမ်သို့ခေါ်သွားလော့။အကောင်များကိုသတ်
၍၊ စားစရာကိုပြင်ဆင်လော့။ သူတို့သည်ငါနှင့်
အတူနေ့တည့်စာကို စားရကြလိမ့်မည်ဟု၊မှာ
၁၇ ထားသည်အတိုင်း။- ဝန်စာရေးပြု၍၊သူတို့ကို
၁၈ ယောသပ်အိမ်သို့ခေါ်သွား၏။-ယောသပ်အိမ်
သို့ခေါ်သွားသောအခါ၊ သူတို့သည်ငါတို့အိတ်
၌ ယမန်ပြန်ပေးသောငွေကြောင့် ခေါ်သွင်းပြီ။
သူသည်အမှုရှာလိမ့်မည်။ ငါတို့ကိုအပြစ်ရှိသ
ဖြင့်ကျွန်ခံစေ၍၊ မြည်တို့ကိုသိမ်းလိမ့်မည်ဟု ဆို
၁၉ ကြပြီးလျှင်၊- ယောသပ်၏ဝန်စာရေး အနီးသို့
ချဉ်းကပ်၍၊ အိမ် တံ ခါး နား မှာ နှုတ် ဆက်
၂၀ လျှက်၊- သခင်၊ ယမန်က အကျွန်ုပ်တို့သည်အ
၂၁ စာကိုဝယ်ခြင်းငှါအမှန်လာပါ၏။- စားခန်းသို့
ရောက်၍အိတ်များကိုဖွင့်သောအခါ၊ လူတိုင်း
ဆိုင်သောငွေသည် အလျှင်းမလျော့ဘဲ အိတ်ဝ
တွင်ရှိပါ၏။ ထိုငွေကိုတဖန်ဆောင်ခဲ့ကြပါပြီ။-
၂၂ ယခုလည်းအစာကိုဝယ်ခြင်းငှါ၊ အခြားသော
ငွေကို ကိုယ်၌ ဆောင်ခဲ့ ကြပါ၏။ ထိုငွေကိုအ
ကျွန်ုပ်တို့ အိတ်များ၌ အဘယ်သူ ထား သည်
၂၃ ကိုမသိနိုင်ပါဟု ဆိုကြသော်၊- ဝန်စာရေးက၊
ချမ်းသာပါစေ၊ မစိုးရိမ်ကြနှင့်။ သင်တို့ဘုရား
သခင်၊သင်တို့အဘ၏ဘုရားသခင်သည်၊သင်တို့
အိတ်များ၌ဘဏ္ဍာကို သနားတော်မူပြီ။သင်တို့
ငွေကိုငါခံရပြီဟုဆိုသဖြင့်၊ ရှိမောင်ကိုထုတ်၍
၂၄ အပ်လိုက်လေ၏။- ယောသပ်အိမ်သို့သွင်းပြီး
မှ၊ ဝန်စာရေးသည်ရေကိုပေး၍ ခြေဆေးစေ၏။
၂၅ မြည်တို့ကိုလည်းကျွေးလေ၏။-မွန်းတည့်အချိန်၌
ယောသပ် လာလိမ့်မည်ဟု၊ သူတို့သည် မျှော်
လင့်၍ထက်ဆောင်ကို ပြင်နှင့်ကြ၏။ ထိုအိမ်၌
သူတို့ သည် အစာကို စားရလိမ့်မည်ဟု၊ သူတို့
သည်ကြားလေသတည်း။
၂၆ ယောသပ်သည် အိမ်သို့ ရောက်သော အခါ၊
သူတို့သည် ကိုယ်၌ ပါသော ထက် ဆောင် ကို
အိမ်ထဲ ယောသပ် ထံသို့ သွင်း၍၊ သူ့ရှေ့မှာဦး
၂၇ ညွှတ်ချလျှက်နေကြ၏။- ယောသပ်သည် နှုတ်
ဆက်ပြီးလျှင်၊သင်တို့အဘတည်းဟူသော၊သင်
တို့အရင်ပြောသောအသက်ကြီးသူသည်ကျန်း
မာပါ၏လော။အသက်ရှင်သေး၏လောဟု မေး
၂၈ လျှင်၊- သူတို့က၊ကိုယ်တော်ကျွန်၊ကျွန်တော်တို့
အဘသည် ကျန်းမာပါ၏၊ အသက်ရှင်ပါသေး၏
ဟုလျှောက်လျှက်၊ ဦးညွှတ်ချ၍ ရှိခိုးလျှက် နေ
၂၉ ကြ၏။-ထိုအခါယောသပ်သည်မျှော်ကြည့်၍မိ
မိအမိ၏သား၊ မိမိညီရင်းဗယ်ဒါမိန်ကိုမြင်လျှင်၊
ဤသူကား၊ သင်တို့အရင်ပြောသော သင်တို့ညီ
ဖြစ်သလောဟု မေးလျှက်၊ သင့်ကိုဘုရားသခင်

ထိတ်မသနားတော်မူပါစေသော သားဟုဆို
၃၀ ပြီးမှ၊– ညီရင်းကိုမြင်ရ၍ ကြင်နာသော စိတ်မှိ
သော့ကြောင့်၊ အလျင်အမြန်ထသွားလေ၏။ ငို
ရာအရပ်ကို ရှာသဖြင့်၊ အိပ်ခန်းထဲသို့ဝင်၍ ငို
၃၁ လေ၏။– တပါးမျက်နှာကို သစ်၍ ရှင်ပြန် ချုပ်
တည်းလျက်ပြင်သို့ထွက်ပြီးလျှင်၊ စားပွဲကိုပြင်
၃၂ ကြလော့ဟုမိန့်မှာ၏။–ယောသပ်အဖို့တပွဲ၊အစ်ကိုတို့
အဖို့တပွဲ၊ ယောသပ်နှင့်စားသော အဲဂုတ္တုလူတို့
အဖို့တပွဲ၊အသီးအသီးတို့ကိုပြင်ကြ၏။ အဲဂုတ္တု
လူတို့သည်ဟေဗြဲလူတို့နှင့်အတူမစားရ၊ ထိုအ
၃၃ မှုကိုအဲဂုတ္တုလူတို့သည် ရွံတတ်ကြ၏။– ညီအစ်
ကိုတို့သည်အကြီးမှစ၍ အငယ်တိုင်အောင် အ
ရွယ်အလိုက်၊ ယောသပ်ရှေ့မှာ ထိုင်နေ ကြ၏။
သူတို့သည် အချင်းချင်းကြည့်ရှု၍အံ့ဩခြင်းရှိကြ
၃၄ ၏။– ယောသပ်သည်ထည်း သူတို့စားရန်အဖို့၊
အသီးအသီးတို့ကိုမိမိထံမှပေးလိုက်၏။ ဗင်္ယာ
မိန် ရသောအဖို့သည် အစ်ကိုတို့ ရသော အဖို့
ထက်ငါးဆများသတည်း။ သူတို့သည်သောက်
၍ရွှင်လန်းခြင်းသို့ရောက်ကြ၏။

၄၄

၁ ယောသပ်သည်ထည်းဝန်စာရေးကိုခေါ်၍၊
ထိုသူတို့အိတ်များ၌ ရွက်ဆောင်နိုင်သမျှအပြည့်
ထည့်လော့။ လူတိုင်း ဆိုင်သော ငွေကို မိမိတို့
၂ အိတ်ဝတွင်ငုင်၊–စပါးအဖိုးငွေနှင့်ငွေဖလား
ကို၊ အငယ်ဆုံးသောသူ၏အိတ်ဝတွင်ငုင်ထည့်
ထားလော့ဟု၊ မှာသည်အတိုင်း ဝန်စာရေးပြု
၃ လေ၏။– နံနက်မိုးလင်းသောအခါ၊ထိုသူတို့
၄ ကိုမြည်းများနှင့်တကွ လွှတ်လိုက်လေ၏။– မြို့ပြင်
သို့ရောက်၍ မဝေးသေးသောအခါ၊ ယောသပ်
သည်ဝန်စာရေးကိုခေါ်၍၊ ထိုသူတို့ကိုမြန်မြန်
လိုက်လော့။မှီသောအခါ၊သင်တို့သည်ကျေးဇူး
ကို မကောင်းသော အမှုနှင့် အဘယ်ကြောင့်
၅ ဆပ်ကြသနည်း။– သခင်သောက်သောဖလား
မဟုတ်လော၊ ထူးဆန်းသောဉာဏ်ကိုဖြစ်စေ
တတ်သောဖလားမဟုတ်လော။သင်တို့ပြုသော
ဤအမှုသည် မကောင်းပါ တကားဟု ပြောဆို
၆ လော့ဟုမှာသည်အတိုင်း၊–ဝန်စာရေးလိုက်၍မှီ
သောအခါပြောဆိုလေ၏။ သူတို့ကလည်း၊ ဤစ
၇ ကားကိုသခင်သည် အဘယ်ကြောင့်ပြောပါသ
နည်း။– ကိုယ်တော်ကျွန်တို့နှင့်ထိုသို့သောအမှု
၈ ဝေးပါစေသတည်း။– ယမန်ကအိတ်ဝတွင်းတွေ့
သောငွေကို၊ ခါနာန်ပြည်မှကိုယ်တော်ထံသို့ထ
မ်းဆောင်ခဲ့ပါပြီ။ ထိုမြစ်လျှင်၊ကိုယ်တော်၏သ
ခင်အိမ်၌ ရွှေငွေကို အဘယ်ကြောင့် ခိုးရပါမည့်
၉ နည်း။– ကိုယ်တော်၏ကျွန်တို့တွင်မည်သူ၌တွေ့
လျှင်၊ထိုသူကိုသေစေ၊ကျွန်တော်တို့သည်သခင်၏
၁၀ သခင်၏ကျွန်ခံကြပါမည်ဟုဆိုကြ၏။– ဝန်စာ
ရေးကလည်း၊ သင်တို့ စကားအတိုင်း ဖြစ်စေ။
သို့သော်လည်း၊ မည်သူ၌တွေ့လျှင်၊ ထိုသူသည်
ငါ့ကျွန်ဖြစ်စေ။ သင်တို့မူကား အပြစ်လွတ်ကြစေ
၁၁ ဟုဆိုသော်၊– ထိုသူအပေါင်းတို့သည်အသီးအ
၁၂ သီးမိမိတို့အိတ်များကိုမြေ၌ချ၍ဖွင့်ကြ၏။–ဝန်
စာရေးသည်လည်း၊ အကြီးမှစ၍ အငယ်တိုင်
အောင်ရှာသဖြင့်၊ ဗင်္ယာမိန်၏အိတ်၌ ဖလားကို
၁၃ တွေ့၏။– ထိုအခါသူတို့သည်မိမိအဝတ်ကိုဆုတ်
၍၊လူတိုင်းမိမိမြည်ပေါ်မှာဝန်ကိုတင်ပြန်သဖြင့်မြို့
သို့ပြန်သွားကြ၏။
၁၄ ယုဒနှင့်ညီအစ်ကိုတို့သည်ယောသပ်အိမ်သို့
ရောက်၍၊ သူသည်အိမ်၌ရှိသေးသဖြင့်၊ သူ့ရှေ့
၁၅ မှာပြပ်ဝပ်လျက်နေကြ၏။–ယောသပ်ကလည်း။
သင်တို့သည်အဘယ်သို့ပြုပြီးသနည်း။ငါကဲ့သို့
သောယောကျ်ားသည်ထူးဆန်းသောဉာဏ်ရှိ
ကြောင်းကို၊ သင်တို့မသိကြသလောဟုဆို၏။–
၁၆ ယုဒကလည်း၊ ကျွန်တော်တို့သည် သခင်အား
အဘယ် စကားဖြင့် လျှောက်ရပါအံ့နည်း။ အ
ဘယ်သို့ပြောရပါအံ့နည်း၊ ဤအမှုနှင့်အဘယ်
သို့လွတ်နိုင်ပါအံ့နည်း။ ကိုယ်တော်ကျွန်တို့၏
အပြစ်ကို ဘုရားသခင်စစ်၍ တွေ့တော်မူပြီ။ အ
ကြင်သူ၌ ဖလားတော်ကို တွေ့၏၊ ထိုသူမှစ၍
ကျွန်တော်တို့ရှိသမျှသည် သခင်၏ကျွန် ဖြစ်ကြ
၁၇ ပါ၏ဟုလျှောက်လေသော်၊– ယောသပ်က၊ ထို
သို့ငါမပြုရ။အကြင်သူ၏လက်၌ဖလားကိုတွေ့
၏၊ ထိုသူသည်ငါ့ကျွန်ဖြစ်စေ။ သင်တို့မူကား၊အ
ဖထံသို့ငြိမ်ဝပ်စွာသွားကြလော့ဟုမိန့်လေ၏။
၁၈ ထိုအခါယုဒသည်ချဉ်းကပ်လျက်၊ သခင်ဘု
ရား၊ ကိုယ်တော် ကျွန်သည် စကားတခွန်းမြင့်
နားတော်လျှောက်ရသောအခွင့်ကို ပေးတော်မူ
ပါ။ကိုယ်တော်ကျွန်၌အမျက်ထွက်တော်မမူပါ
နှင့်။ ကိုယ်တော်သည် ဖာရောဘုရင်ကဲ့သို့ ဖြစ်
၁၉ တော်မူ၏။–သခင်ကသင်တို့သည်အဖရှိသလော။
ညီရှိသေးသလောဟု ကျွန်တော်တို့အားမေးတော်မူ
လျှင်၊– ကျွန်တော်တို့က၊ ကျွန်တော်တို့အဖအ
သက်ကြီးသောသူရှိပါ၏။ အဖအသက်ကြီးမှ
အစ်ရသောသားငယ်တယောက်ရှိပါ၏။ သူ၏

အစ်ကိုသေပါပြီ၊ ထိုအမိဖွားသောသားတို့တွင်၊
သူတယောက်တည်းကျန်ရစ်ပါ၏၊ ထိုကြောင့်သူ
၏ အဖသည် သူ့ကိုချစ်ပါ၏ဟု၊ သခင်အား ပြန်
၂၀ လျှောက်ထသော်၊- ကိုယ်တော်က၊ ထိုသူကို
ငါကြည့်ရှုရအောင် ငါ့ထံသို့ခေါ်ခဲ့ကြဟု၊ ကိုယ်
၂၁ တော်ကျွန်တို့အား မိန့်တော်မူ၏။- ကျွန်တော်တို့
က၊ ထိုသူငယ်ကို အဖနှင့်မခွာနိုင်ပါ၊ အဖနှင့်ခွာ
လျှင်၊ အဖသေပါလိမ့်မည်ဟု သခင်အား လျှောက်
၂၂ သော်လည်း၊- ကိုယ်တော်က၊ သင်တို့ညီ မပါ
လျှင်၊ သင်တို့သည် ငါ့မျက်နှာကို နောက်တဖန်မ
မြင်ရဟု၊ ကိုယ်တော်ကျွန်တို့အား မိန့်တော်မူ
၂၃ ၏။- ထိုနောက်ကျွန်တော်တို့သည် ကိုယ်တော်
ကျွန် တည်းဟူသော၊ ကျွန်တော်တို့ အဖထံသို့
ပြန်၍ရောက်သောအခါ၊ သခင်စကားတော်ကို
၂၄ အဖအား ပြန်ကြားပါ၏။- ကျွန်တော်တို့အဖက
လည်း၊ တဖန်သွား၍ ငါတို့စားစရာ အနည်းငယ်
၂၅ ကိုဝယ်ကြပါဟုဆိုသောအခါ၊- ကျွန်တော်တို့
က၊ အကျွန်ုပ်တို့သည် မသွားနိုင်ပါ၊ ညီပါလျှင်
သွားနိုင်ပါ၏၊ ညီမပါလျှင်၊ ထိုသူ၏မျက်နှာကိုမ
၂၆ မြင်ရပါဟု ပြန်ပြောပါ၏။- ကိုယ်တော် ကျွန်၊
ကျွန်တော် အဖကလည်း၊ သင်တို့သိသည် အ
တိုင်း၊ မယားသည် ငါ့အားသားနှစ်ယောက်ကို
၂၇ ဖွား၏။- တယောက်ကား၊ ငါ့ထံမှထွက်သွား၏၊
အကယ် စင်စစ်သူသည် အပိုင်းအပိုင်း ကိုက်
ဖြတ်ခြင်းကို ခံရပါပြီတကား ဟုငါဆိုရ၏၊ ထို
၂၈ ကာလမှစ၍ သူကို ငါမမြင်ရ။- ဤသူကိုလည်း
ငါ့ထံမှယူသွား၍ သူ၌ဘေးရောက်လျှင်၊ သင်တို့
သည် ငါ့ဆံပင်ဖြူကို ဝမ်းနည်းခြင်းနှင့်တကွ၊ မရ
ဏာနိုင်ငံသို့ သက်ရောက်စေကြ လိမ့်မည်ဟု၊
၂၉ ကျွန်တော်တို့ အား ဆို ပါ၏။- သို့ ဖြစ်၍ ကျွန်
တော်သည် ကိုယ်တော်ကျွန်၊ ကျွန်တော်အဖထံ
သို့ရောက်သောအခါ၊ သူငယ် မပါလျှင်၊ အဖ၏
အသက်သည် သူငယ်၏ အသက်၌ မှီလျက်ရှိ
၃၀ သောကြောင့်၊- သူငယ် မရှိသည်ကို မြင်သော
အခါ၊ အဖသေပါလိမ့်မည်၊ ကိုယ်တော်ကျွန်တို့
သည်၊ ကိုယ်တော်ကျွန် တည်းဟူသော ကျွန်
တော်တို့အဖ ဆံပင်ဖြူကို ဝမ်းနည်းခြင်းနှင့်တ
ကွ၊ မရဏာနိုင်ငံသို့သက်ရောက်စေကြပါလိမ့်
၃၁ မည်။-ကိုယ်တော်ကျွန်က၊ အကျွန်ုပ်သည်တဖန်
သူငယ်ကိုအဖထံသို့ပြန်၍ မဆောင်ခဲ့လျှင်၊ အ
စဉ်မပြတ် အဖရှေ့မှာ အပြစ်ကို ခံပါစေဟုဆို
၃၂ သဖြင့်၊ အဖထံမှာ သူငယ်၏အာမခံဖြစ်ပါ၏။-
၃၃ သို့ဖြစ်၍ ကိုယ်တော်ကျွန်သည် သူငယ်၏အတွက်
နေရစ်၍၊ သခင်ထံ၌ကျွန်ခံရသောအခွင့်၊ သူငယ်
ကိုကား၊ အစ်ကိုတို့နှင့်အတူ သွားရသောအခွင့်
၃၄ ကိုပေးတော်မူပါ။- သူငယ်သည်ကျွန်တော်၌ မ
ပါလျှင်၊ ကျွန်တော် အဖထံသို့အဘယ်သို့ ကျွန်
တော် သွားနိုင် ပါမည်နည်း၊ သို့ပြုလျှင်၊ ကျွန်
တော်အဖ၌ ရောက်ထတ်သော ဘေးဥပါဒ်ကို
ကျွန်တော်မြင်ရပါလိမ့်မည်တကားဟု လျှောက်
ထေ၏။

၄၅

၁ ထိုအခါ၊ ယောသပ်သည် မိမိထံ၌ရှိသောလူ
အပေါင်းတို့ရှေ့တွင်၊ ဆူဖြေကိုမချုပ်တည်းနိုင်
သောကြောင့်၊ လူအပေါင်းတို့၊ ငါ့ထံမှထွက်သွား
ကြဟုတစ်၍၊ မိမိဇာတိ အဖြစ်ကို အစ်ကိုတို့
အားပြသောအခါ၊ အခြားသောသူတယောက်
၂ မျှမရှိရ။-သူသည်ထည်းကျယ်သောအသံနှင့်ငို
ကြွေး၏၊ အဲဂုတ္တု လူတို့သည် နန်းတော် ထိုင်
၃ အောင် ကြား ကြ၏။- အစ်ကို တို့ အား ထည်း၊
ကျွန်ုပ်သည်ယောသပ်ဖြစ်၏၊ ကျွန်ုပ်အဖသည်
အသက် ရှင်သေးသလောဟု ဆို၏၊ အစ်ကိုတို့
သည် စကားတုံ့ပြန်၍မပြောနိုင်အောင်၊ သူ့ရှေ့
၄ မှာမိန်းမောတွေဝေလျက်နေကြ၏။- ယောသပ်
ကလည်း၊ ကျွန်ုပ်အနီးအပါးသို့လာကြပါတော့
ဟု အစ်ကိုတို့အား ဆိုလျှင်၊ သူတို့သည် အနီးအ
ပါးသို့ချဉ်းလာကြ၏၊ သူကလည်း၊ ကျွန်ုပ်သည်
အဲဂုတ္တုပြည်သို့ ရောင်းလိုက်သော သင်တို့ညီ
၅ ဖြစ်ပါ၏။-သို့ရာတွင်သင်တို့သည် ကျွန်ုပ်ကိုဤအ
ရပ်သို့ ရောင်းလိုက်မိသောကြောင့်၊ စိတ်မညှိုး
ငယ်ကြနှင့်၊ ကိုယ်ကိုအပြစ်မတင်ကြနှင့်၊ အ
ကြောင်းမူကား၊ ဘုရားသခင်သည် လူတို့အသက်
ကိုစောင့်မစေခြင်းငှါ၊ သင်တို့ရှေ့မှာကျွန်ုပ်ကိုစေ
၆ လွှတ်တော်မူပြီ။-မြေပေါ်မှာနှစ်နှစ်အစာခေါင်း
ပါးခဲ့ပြီ၊ ထယ်လုပ်ခြင်း၊ စပါးရိတ်ခြင်းကိုမပြု
၇ ရသောနှစ်ငါးနှစ်ရှိသေး၏။-ဘုရားသခင်သည်
သင်တို့ကို မြေကြီးပေါ်မှာ ကျန်ကြွင်းစေခြင်းငှါ
၎င်း၊ ကြီးစွာသောကယ်တင်ခြင်းအားဖြင့်၊ သင်
တို့ အသက် ကိုချမ်းသာစေခြင်းငှါ၎င်း၊ သင်တို့
၈ ရှေ့မှာ ကျွန်ုပ်ကိုစေလွှတ်တော်မူပြီ။- သို့ဖြစ်၍
သင် တို့သည် ကျွန်ုပ် ကို ဤ အရပ်သို့ စေလွှတ်
သည်မဟုတ်၊ ဘုရားသခင် စေလွှတ်တော် မူသ
တည်း၊ ကျွန်ုပ်ကိုဖာရောဘုရင်၏အဘအရာ၌၎င်း၊
နန်း တော်အုပ် အရာ၌၎င်း၊ အဲဂုတ္တုပြည် တုံ့

ထိုစကားကိုမိုးသောသားဝမ်းအရာ၌ရှင် စေ၌ထားတော်
မူပြီ။- အကျွန်ုပ်ထံသို့ ဆင်းသက်လာ၍ အလျှင်အမြန်
သောအုံ၊ အဘ အားလည်း၊ သား ယောသပ်က၊ ဘု
ရားသခင်သည် ကျွန်ုပ်ကို အဲဂုတ္တုပြည်လုံး၏သ
ခင်ဖြစ်စေတော်မူပြီ၊ ကျွန်ုပ်ထံသို့လာပါ၊ မဆိုင်း
၁၀ ပါနှင့်။- အဘသည် ဂေါရှင်အရပ်၌ နေရမည်၊
ကျွန်ုပ်အနားမှာရှိရမည်၊ အဘမှစ၍၊ သားမြေး၊
၁၁ သိုး၊ နွား နှင့်တကွရှိသမျှပါရမည်။- ထိုအရပ်၌
ကျွန်ုပ်ကျွေးမွေးပါမည်၊ သို့မဟုတ်၊ အဘမှစ၍၊
အိမ်သူအိမ်သားနှင့်တကွ ရှိသမျှတို့သည်ထင်း
ရဲခြင်းသို့ရောက်ကြလိမ့်မည်၊ အစာခေါင်းပါး
သောနှစ် ငါးနှစ်ရှိသေးသည်ဟုပြောကြလော့။-
၁၂ ကျွန်ုပ်သည် ကိုယ်တိုင် သင်တို့နှင့် စကား ဆက်
သည်ကို၊ သင်တို့မျက်စိ၊ ကျွန်ုပ်ညီဗင်ယာမိန်မျက်
၁၃ စိအမြင်သားဖြစ်၏။- အဲဂုတ္တုပြည်၌ ကျွန်ုပ်ရ
သောဘုန်းစည်းစိမ်မှစ၍၊ သင်တို့မြင်သမျှတို့ကို
အဘအား ပြောရမည်၊ အလျှင်အမြန်ပြု၍၊ အဘ
ကို ဤပြည်သို့ ဆောင်ခဲ့ရမည်ဟု ဆိုပြီးလျှင်၊-
၁၄ ညီဗင်ယာမိန်လည်ပင်းကိုဖက်၍ငိုလေ၏၊ ဗင်ယာ
၁၅ မိန်သည်လည်း လည်ပင်း၌ငိုလေ၏။- တ
ဖန်အစ်ကိုရှိသမျှတို့ကိုနမ်း၍၊ သူတို့နှင့်ငိုသော
နောက်၊ အချင်းချင်း စကားဆက်ကြ၏။
၁၆ ယောသပ်အစ်ကိုတို့သည် ရောက်လာကြပြီ
ဟု၊ နန်းတော်၌ထိတင်းကြား၍၊ ဖာရောဘုရင်
အစရှိသောကျွန်တော်မျိုးတို့သည် နှစ်သက်ကြ
၁၇ ၏။-ဖာရောဘုရင်သည်လည်းယောသပ်ကိုခေါ်
၍၊ သင်၏အစ်ကိုတို့အား အဘယ်သို့ပြောရမည်
နည်းဟူမူကား၊ သင်တို့သည်ဤသို့ပြုကြလော့၊
မြည်းတို့ကိုဝန်တင်၍၊ ခါနာန်ပြည်သို့ ပြန်သွားသ
၁၈ ဖြင့်၊-သင်တို့အဘနှင့်အိမ်သူအိမ်သားတို့ကိုယူ
၍၊ ကျွန်ုပ်ထံသို့လာကြလော့၊ အဲဂုတ္တုပြည်၏
စည်းစိမ်ကိုငါပေး၍၊ သင်တို့သည်မြေဩဇာကို
၁၉ စားရကြလိမ့်မည်။- အမိန့်တော်ရှိသည်ဖြစ်၍၊
ဤသို့ပြုကြလော့၊ သင်တို့မိန်းမများ၊ သူငယ်များ
တို့၊ အဲဂုတ္တုပြည်ထဲကလှည်းတို့ကိုယူပြီးလျှင်၊
၂၀ အဘကိုဆောင်၍လာခဲ့ကြလော့။- သင်တို့ဥစ္စာ
များကိုမနှမြောကြနှင့်၊ အဲဂုတ္တုပြည်၏စည်း
စိမ်ရှိသမျှသည်၊ သင်တို့ဥစ္စာဖြစ်၏ဟု၊ အမိန့်
၂၁ တော်ရှိသည်အတိုင်း။- ဣသရေလ၏ သားတို့
သည်ပြု၍၊ ယောသပ် သည် လှည်းတို့ကို ပေး၊
၂၂ ထမ်းခရီး၌ စားစရိတ်များကိုပေးလေ၏။- အစ်
ကို ရှိသမျှတို့အားလည်း၊ အဝတ်လဲစရာတို့ ပေး

၏၊ ဗင်ယာမိန်အားလည်း၊ ငွေအကျပ်သုံးရာနှင့်၊
အဝတ်လဲစရာတို့အဝတ်ငါးစုံကိုထပ်၍ပေး၏။-
၂၃ အဘ အားလည်း အဲဂုတ္တုပြည်၏ ကောင်းသော
အရာတို့ကိုဆောင်သောမြည်းဆယ်၊ ထမ်းခရီး၌
အဘစားစရာတို့ပေါ၊ ဂျုံ၊ မုန့်၊ စားဖွယ်များ
ကို ဆောင်သော မြည်း တဆယ်ကို လေး လိုက်၏။-
၂၄ သင်တို့သည်ထမ်းခရီး ရန်မတွေ့ကြနှင့်ဟုမှာထား
လျှက်၊ အစ်ကိုတို့ကိုလွှတ်လိုက်၍ သူတို့သည်
သွားကြ၏။
၂၅ ထိုသို့ အဲဂုတ္တုပြည်မှ ထွက်သွား၍၊ ခါနာန်
၂၆ ပြည်အဘယာကုပ်ထံသို့ရောက်ကြလျှင်၊-ယော
သပ်သည်အသက်ရှင်သေး၏၊ အဲဂုတ္တုပြည်လုံး
ကိုအုပ်စိုးရ၏ဟု၊ ကြားပြောကြသည်ရှိသော်၊
ယာကုပ်သည် စိတ်နှစ်လုံး လျော့၏၊ သူတို့ စ
၂၇ ကားကိုမယုံနိုင်။-သူတို့သည်လည်းယောသပ်
ပြောသမျှသောစကားတို့ကိုပြန်ပြောကြ၏၊ အ
ဘယာကုပ်သည် မိမိစီးစရာဘို့ ယောသပ် ပေး
လိုက်သော လှည်းတို့ကို မြင်သောအခါ၊ စိတ်
၂၈ နှစ်လုံးအားဖြည့်ပြန်၏။-ဣသရေလကလည်း။
တန်တော့၊ သားယောသပ် အသက်ရှင်သေး
၏၊ ငါမသေမှီသူကိုသွား၍ကြည့်မည်ဟုဆို၏။

၄၆

၁ ထိုအခါဣသရေလသည်မိမိဥစ္စာရှိသမျှနှင့်အ
ကွ ခရီးသွား၍၊ ဗေရ ရှေဘ အရပ်သို့ ရောက်
လျှင်၊ မိမိအဘ ဣဇာက်၏ ဘုရား သခင် အား
၂ ယဇ်ပူဇော်ခြင်းကိုပြုလေ၏။- ညည့်အခါရူပါ
ရုံတော် အားဖြင့် ဘုရား သခင်က၊ ယာကုပ်၊
ယာကုပ်ဟု ခေါ်တော် မူလျှင်၊ ယာကုပ်က၊ အ
၃ ကျွန်ုပ် ရှိပါသည်ဟုလျှောက်လေ၏။- ထာဝရ
ဘုရားကလည်း၊ ငါသည် ဘုရားသခင် ဖြစ်၏၊
သင့်အဘ၏ဘုရားသခင်ဖြစ်၏၊ အဲဂုတ္တုပြည်သို့
သွားရမည် အခွင့်ကို မစိုးရိမ်နှင့်၊ ငါသည် ထို
၄ ပြည်၌သင့်ကိုလူမျိုးကြီးဖြစ်စေမည်။- အဲဂုတ္တု
ပြည်သို့ သင်နှင့်အတူ ငါသွားမည်၊ တဖန် ငါ
ဆောင်ခဲ့ ဦးမည်၊ ယောသပ်သည် မိမိလက်ဖြင့်
သင်၏ မျက်စိ ပေါ်မှာ တင်ရ လိမ့် မည်ဟု မိန့်
တော်မူ၏။
၅ တဖန်ယာကုပ်သည်ဗေရရှေဘအရပ်မှထွက်
၍၊ သူ့စီးစရာဘို့ ဖာရော မင်း ပေး လိုက် သော
လှည်းတို့ဖြင့်၊ ဣသရေလ၏ သားတို့သည်အဘ
မှစ၍၊ မိန်း မများနှင့် သူငယ် များ တို့ကို ဆောင်
၆ လျှက်၊- ခါနာန်ပြည်၌ရသောတိရစ္ဆာန်များနှင့်

ဥစ္စာများကိုထည်းယူ၍ အဲဂုတ္တုပြည်သို့ သွား
၇ ကြ၏။– ယာကုပ်သည် ကိုယ်တိုင်မှစ၍၊ သား
သမီးမြေးတဦးဟူသောအမျိုးအနွယ်အပေါင်း
တို့ကို၊အဲဂုတ္တုပြည်သို့ဆောင်သွားလေ၏။
၈ အဲဂုတ္တုပြည်သို့ရောက်သောဣသရေလသား
တို့၏အမည်ကား၊ ယာကုပ်နှင့် သူ၏သားများ။
၉ သားဦး ရုဗင်။– ရုဗင်သား။ ဟာနုတ်၊ ဖာလု၊
၁၀ ဟေဇရုံ၊ကာမိ။–ရှိမောင်သား။ယေမွေလ၊ယာ
မိန်၊ ဩဟဒ်၊ယာခိန်၊ ဇောဟာ၊ ခါနာန်အမျိုး
၁၁ မိမ္မ၏သားရှောလ။– လေဝိသား။ဂေရရှုံ၊ကော
၁၂ ဟတ်၊မေရာရိ။– ယုဒသား။ဧရ၊ဩနန်၊ရှေလ၊
ဖာရက်၊ဇာရ။ ထိုသူတို့တွင်ဧရနှင့်ဩနန်သည်
ခါနာန်ပြည်၌သေသတည်း။ဖာရက်သား၊ဟေ
၁၃ ဇရုံနှင့်ဟာမုလ။–ဣသခါသား။တောလ၊ဖုဝါ၊
၁၄ ယောဘ၊ရှိမရုန်။– ဇာဗုလုန်သား။ သရက်၊ ဧ
၁၅ လုန်၊ ယာလေလ။– ဤသူတို့ကား၊ ယာကုပ်မ
ယားလေအာသည် ပါဒနာရံအရပ်၌ဖွားသော
သားတည်း။ သမီးဒိနနှင့်တကွ၊ သားသမီးပေါင်း
သုံးဆယ်သုံး။
၁၆ ဂဒ်သား။ ဇိဖျုန်၊ဟဂ္ဂိ၊ရှုနိ၊ ဧဇဗုန်၊ဧရိ၊အ
၁၇ ရောဒိ၊အရေလိ။– အာရှာသား။ ယိမန၊ ဣရှွာ၊
ဣရှွိ၊ဗေရိယ၊နှမဧရာတည်း။ ဗေရိယသား၊
၁၈ ဟေဗာနှင့် မာလခေျလ။– ဤသူတို့ကား၊ လာ
ဗန်သည် သမီးလေအာအား၊ လက်ဖွဲ့သောယာ
ကုပ်မယားဇိလပဖွားသောသားတည်း။ပေါင်း
တဆယ်ခြောက်။
၁၉ ယာကုပ်မယားရာခေလသား။ယောသပ်နှင့်
၂၀ ဗင်္ယာမိန်။–အဲဂုတ္တုပြည်၌ဩနမြို့ယဇ်ပုရောဟိတ်ပေါတိဖေရသမီးအာသနတ်တွင်ယောသပ်
၂၀ ရနှင့်သောသား၊ မနာရှေနှင့် ဧဖရိမ်။– ဗင်္ယာ
မိန်သား။ ဗေလ၊ဗေခါ၊ အာရှဗေလ၊ဂေရ၊ နေ
၂၂ မန်၊ ဧဟိ၊ရောရှ၊ မုပိမ်၊ဟုပိမ်၊အာရဒ။– ဤသူ
တို့ကား၊ ယာကုပ်မယား ရာခေလ ဖွားသော
သားတည်း။ပေါင်းတဆယ်လေး။
၂၃ ၂၄ ဒန်သား။ဟုရှိမ်။– နဿလိသား။ ယာဇေ
၂၅ လ၊ဂုနိ၊ယေဇာ၊ရှိလင်။– ဤသူတို့ကား၊လာဗန်
သည်သမီးရာခေလအားလက်ဖွဲ့သော ယာကုပ်
မယားဗိလဟာဖွားသောသားတည်း။ ပေါင်းခု
၂၆ နှစ်။–ယာကုပ်ချွေးမများကိုမဆိုဘဲ၊ယာကုပ်မှ
ဆင်းသက်၍၊သူနှင့်အတူအဲဂုတ္တုပြည်သို့သွား
သောလူ ပေါင်းကား၊ ခြောက်ဆယ် ခြောက်
၂၇ ယောက်တည်း။– အဲဂုတ္တုပြည်၌ ယောသပ်ရ
နှင့်သော သား နှစ်ယောက် ရှိ၏။ သို့ဖြစ်၍ အဲ
ဂုတ္တု ပြည်သို့ ရောက်သော ယာကုပ်၏ အမျိုး
သားပေါင်းကား ခုနစ်ဆယ်တည်း။
၂၈ ယောသပ်ထံသို့ဂေါရှင်ပြည်ကိုသွားစေခြင်း
ငှါယုဒကိုအရင်စေလွှတ်ပြီးမှ၊ ဂေါရှင်ပြည်သို့
၂၉ ရောက်ကြ၏။–ယောသပ်သည်ရထားကိုပြင်၍
အဖဣသရေလကိုခရီးဦးကြိုပြုခြင်းငှါ ဂေါရှင်
ပြည်သို့သွား၍၊အဖရှေ့သို့ရောက်သော်၊အဖ၏
၃၀ လည်ပင်းကိုဖက်လျက်ကြာကြာငိုလေ၏။– ဣ
သရေလကလည်း၊ယခုငါသေပါစေသော၊သင်
၏မျက်နှာကိုငါမြင်ရပြီ။ သင်သည်အသက်ရှင်
၃၁ သေး၏ဟုယောသပ်အားဆိုလေ၏။–ယောသပ်
ကလည်း၊ဖာရောမင်းထံသို့ကျွန်ုပ်သွား၍ပြောမည်။
ခါနာန်ပြည်၌ နေသော ကျွန်တော် အစ်ကိုများ၊
ကျွန်တော် အဖ၏အိမ်သား များတို့ သည် ကျွန်
၃၂ တော်ထံသို့ရောက်ကြပါပြီ။– ထိုသူတို့သည်သိုး
ထိန်းဖြစ်ပါ၏။သိုးနွားတို့ကိုမွေးသောသူဖြစ်ပါ
၏။ သူတို့သိုးနွားမှစ၍ရှိသမျှတို့ကိုဆောင်ခဲ့ကြ
၃၃ ပါပြီဟုလျှောက်မည်။– နောက်တခါသင်တို့ကို
ဖာရောမင်းခေါ်၍၊ သင်တို့သည် အဘယ် သို့
လုပ်ဆောင်တတ်သနည်းဟုမေးတော်မူလျှင်။–
၃၄ ကိုယ်တော် ကျွန် တို့သည် ဘိုးဘေး နှင့် တကွ
ငယ်သော အရွယ်မှစ၍ ယခုတိုင်အောင်၊ သိုး
နွားတို့ကိုမွေးသောသူဖြစ်ကြပါ၏ဟုလျှောက်
ရမည်။သို့ဖြစ်၍ဂေါရှင်ပြည်မှာနေသောအခွင့်
ကိုရကြလိမ့်မည်။ သိုးထိန်းဖြစ်သောသူကိုအဲ
ဂုတ္တုလူတို့သည် ရွံရှာတတ်ကြ၏ဟု၊ အစ်ကို
များ၊ အဖ၏အိမ်သားများတို့ကိုပြောဆို၏။

၄၇

၁ ထိုစကားအတိုင်းယောသပ်သည်ဖာရောမင်း
ထံသို့သွား၍ ကျွန်တော်အဖနှင့်အစ်ကိုတို့သည်၊
သိုးနွား၊ ဥစ္စာရှိသမျှကိုဆောင်လျက်၊ ခါနာန်
ပြည်ကရောက်လာ၍၊ ဂေါရှင်ပြည်၌ ရှိကြပါ
၂ သည်ဟုလျှောက်သဖြင့်၊– အစ်ကိုစုထဲကရွေး
၍၊ ငါးယောက်တို့ကို အထံတော်သို့သွင်းလေ
၃ ၏။–ဖာရောမင်းကလည်း၊သင်တို့သည်အဘယ်
သို့လုပ်ဆောင်လျှက်ရှိကြသနည်းဟု မေးလျှင်၊
သူတို့က၊ကိုယ်တော်ကျွန်တို့သည်၊ဘိုးဘေးနှင့်
၄ တကွ၊ သိုးထိန်းဖြစ်ကြပါ၏ဟူ၍၎င်း၊– ခါနာန်
ပြည်၌အလွန်အစာခေါင်းပါး၍၊ သိုးနွားကျက်
စားရာ မရှိသောကြောင့်၊ ကိုယ်တော် ကျွန်တို့
သည်ပြည်တော်၌တည်းခိုခြင်းငှါလာကြပါ၏။

သို့ဖြစ်၍ကိုယ်တော်ကျွန်တို့သည် ဂေါရှင်ပြည်
၌နေရမည်အကြောင်း၊အခွင့်ပေးတော်မူပါဟု
၅ ၍ဂုရှင် လျှောက်ကြ၏။- ဖာရောမင်း ကလည်း၊
သင်၏အဘနှင့်အစ်ကိုတို့သည်သင့်ထံသို့ရောက်
၆ လာကြသည်ဖြစ်၍၊- အဲဂုတ္တုပြည်သည် သင့်
ရှေ့မှာရှိ၏၊သင်၏အဘနှင့်သင်၏အစ်ကိုတို့ကို၊အ
ကောင်းဆုံးသောအရပ်၊ ဂေါရှင် ပြည်၌နေရာချ
လော့၊ သူတို့တွင်အစွမ်းသတ္တိရှိသောသူ အရှိ
သို့လိုတွေ့လျှင်၊ ငါ၏ သိုးနွား ထုပ်အရာ၌ ခန့်
ထားလော့ဟု၊ယောသပ်အားမိန့်တော်မူ၏။
၇ ယောသပ်သည် အဘယာကုပ်ကိုသွင်း၍၊ ဖာ
ရောမင်း ရှေ့မှာထားသဖြင့်၊ ယာကုပ်သည်ဖာ
၈ ရောမင်းကိုကောင်းကြီးပေး၏။-ဖာရောမင်းက၊
သင်သည်အသက်အဘယ်မျှလောက်ရှိပြီနည်း
၉ ဟု ယာကုပ်အား မေးလျှင်၊- ကျွန်တော် သည်
ဧည့်သည်အာဂန္တုဖြစ်၍၊ လွန်သောအသက်
သည်အနှစ်တရာသုံးဆယ်ရှိပါပြီ၊ ကျွန်တော်
အသက် ရှင်သောနှစ်ပေါင်း နည်း၍ ဆိုးပါ၏။
ဧည့်သည်အာဂန္တုဖြစ်သော ဘိုးဘေးတို့၏အ
သက် တန်းကိုမမှီပါဟု လျှောက်ဆို ပြီးလျှင်၊-
၁၀ ဖာရောမင်းကို ကောင်းကြီး ပေး၍၊ အထံတော်
ထွက်သွားလေ၏။
၁၁ ဖာရောမင်းအမိန့်တော်ရှိသည်အတိုင်း၊ယော
သပ်သည် အဘနှင့် အစ်ကိုတို့ကို နေရာချ၍၊ အဲ
ဂုတ္တုပြည်၌ အကောင်း ဆုံးသောအရပ်၊ ရာမ
၁၂ သက်မြေကိုအပိုင်ပေး၏။-အဘနှင့်အစ်ကိုများ၊
အဘ၏အိမ်သားရှိသမျှတို့ကိုအနည်းအများအ
လိုက်ကျွေးမွေး၏။
၁၃ အလွန် အစာခေါင်းပါး၍၊ တပြည်လုံးမှာအ
စာမရှိ သောကြောင့်၊ အဲဂုတ္တုပြည်နှင့် ခါနာန်
၁၄ ပြည်သည် မောလျှော့လေ၏။- ပြည်သား ဝယ်
သောစပါးအဖိုး၊ အဲဂုတ္တုပြည်၊ ခါနာန်ပြည်၌
တွေ့သမျှသောငွေကို၊ ယောသပ်စုသိမ်း၍ နန်း
၁၅ တော်သို့ သွင်းထားလေ၏။- အဲဂုတ္တုပြည်၊ ခါ
နာန်ပြည်၌ ငွေကုန်သောအခါ၊ အဲဂုတ္တုလူအ
ပေါင်းတို့သည်ယောသပ်ထံသို့လာ၍၊ စားစရာ
ကိုပေးသနားတော်မူပါ၊ ကျွန်တော်တို့သည်ငွေ
ကုန်သော်လည်း၊ ရှေ့တော်၌ အဘယ် ကြောင့်
၁၆ သေရပါအံ့နည်းဟုလျှောက်ကြသော်၊- ယော
သပ်က ငွေကုန်လျှင်၊ တိရိစ္ဆာန်များကို ပေး
ကြ။ တိရိစ္ဆာန်အတွက်စပါးကိုပေးမည်ဟုဆို
၁၇ သည့်အတိုင်း- သူတို့သည်တိရိစ္ဆာန်တို့ကိုယူ
ခဲ့၍၊ ယောသပ်သည် မြင်း၊ သိုး၊ နွား၊ မြည်း တို့အ
တွက်စပါးကိုပေးသဖြင့်၊ ထိုနှစ်တွင်တိရိစ္ဆာန်
ရှိသမျှတို့အတွက်၊ ပြည်သားများကိုကျွေးမွေး
၁၈ ၏။- ထိုနှစ်ကုန်ပြီးမှ၊ ဒုတိယနှစ်တွင် လာကြ
လျှင်၊ ကျွန်တော်တို့ငွေ ကုန်ကြောင်းကို သခင်
ရှေ့မှာ မထိမ်ဝှက်ပါ။ ကျွန်တော်တို့ တိရိစ္ဆာန်
များကိုလည်း သခင်ရပါပြီ။ သခင်ရှေ့မှာကျွန်
တော်တို့ကိုယ်နှင့်မြေမှတပါး၊အဘယ်အရာမျှ
၁၉ မကျန်ပါ။-ရှေ့တော်၌အဘယ်ကြောင့်သေ၍၊
ပြည်တော် ပျက်ရ ပါအံ့နည်း။ အစာကို ပေး၍
ကျွန်တော်တို့နှင့်၊ ကျွန်တော်တို့မြေကိုဝယ်ပါ။
ကျွန်တော်တို့သည်မြေနှင့်တကွ၊ ဖာရောဘုရင်
၏ကျွန်ခံပါမည်။ ကျွန်တော်တို့သည်မသေ၊အ
သက် ရှင်စေခြင်းငှါ၎င်း၊ ပြည်တော်သည် လူမ
ဆိတ် ညံ စေခြင်း ငှါ၎င်း၊ မျိုးစေ့ကို ပေးပါ ဟု
၂၀ လျှောက် ကြသော်၊- ယောသပ်သည် အဲဂုတ္တု
မြေရှိသမျှကိုဖာရောမင်းဘို့ဝယ်လေ၏။ အစာ
ခေါင်း ပါး၍၊ အဲဂုတ္တု လူတို့သည် မတတ်နိုင်
သော ကြောင့်၊ အသီး အသီး ပိုင်သော မြေ အ
ကွက်တို့ကိုရောင်းကြသဖြင့်၊ မြေသည်ဖာရော
၂၁ တော်ဖြစ်လေ၏။- လူတို့ကိုကား၊အဲဂုတ္တုပြည်
တ စွန်းမှ သည် တ စွန်း တိုင်အောင် မြို့ တို့သို့
၂၂ ပြောင်းစေ၏။-ယဇ်ပုရောဟိတ်တို့ပိုင်သောမြေ
ကိုကားမဝယ်။ သူတို့သည် ဖာရောမင်း ကျွေး
မွေးသည်အတိုင်း၊ကျွေးမွေးသောအစာကိုစား
ရကြ၏။ ထိုကြောင့်မိမိတို့မြေကိုမရောင်းရကြ။-
၂၃ ယောသပ်ကလည်း၊ သင်တို့နှင့် သင်တို့မြေကို
ဖာရောမင်းဘို့ယနေ့ငါဝယ်ပြီ။ မျိုးစေ့ကိုယူ၍
၂၄ ထယ်လုပ်ကြလော့။- အသီးအနှံကိုရသောအ
ခါ၊ ငါးမှို့တွင်တမှို့ကို ဖာရောမင်းအားဆက်ရ
ကြမည်။ လေးမှို့ကိုကားသင်တို့ယူ၍နောက်ထ
ပန်မျိုးစေ့ကိုကြဲကြလော့။ သင်တို့စား၍၊ အိမ်
သားများ၊ သူငယ်များတို့ကိုကျွေးကြလော့ဟု
၂၅ ပြည်သားတို့အား ဆို၏။-သူတို့ကလည်း၊ကိုယ်
တော်သည် ကျွန်တော်တို့အသက်ကိုကယ်ပါပြီ။
သနားသောမျက်နှာနှင့် ကြည့်ရှုတော်မူပါ။ ကျွန်
တော်တို့သည် ဖာရောဘုရင်၏ကျွန်ခံရပါမည်ဟု
၂၆ လျှောက်ကြ၏။- ထိုကြောင့် ဖာရောမင်း မပိုင်
သောယဇ်ပုရောဟိတ်တို့မြေကိုထား၍၊ဖာရော
မင်းသည် ငါးမှို့တွင် တမှို့ကို ပိုင်တော်မူစေဟု၊
ယနေ့တိုင်အောင်အဲဂုတ္တုပြည်၌တည်သောစီရင်
ထုံးကိုယောသပ်စီရင်၍ထားသတည်း။

၂၇ ဣသရေလ လူမျိုးသည်၊ အဲဂုတ္တုပြည် ဂေါ
ရှင်ခရိုင်၌ နေသဖြင့်၊ ဥစ္စာရတတ်၍ တိုးပွား
၂၈ များပြားကြ၏။–ယာကုပ်သည်အဲဂုတ္တုပြည်၌
အသက်ဆယ့်ခုနစ်နှစ်အသက်ရှင်၍၊အသက်နှစ်ပေါင်း
၂၉ အရာလေးဆယ်ခုနစ်နှစ်ရှိသတည်း။–ဣသရေ
လသည်သေရသောအချိန်နီးသော်၊ သားယော
သပ်ကိုခေါ်၍၊ငါ့ကိုသနားလျှင်၊ သင်၏လက်ကို
ပေါင်အောက်၌ထားပါ။ ကျေးဇူး သစ္စာ
နှင့်အညီငါ၌ပြုပါ။ အဲဂုတ္တုပြည်၌ငါ့ကိုမသင်း
၃၀ ဂြိုဟ်ပါနှင့်။– ငါသည်ဘိုးဘေးနှင့်အတူ အိပ်
ပျော်ပါ၏။အဲဂုတ္တုပြည်မှငါ့ကိုဆောင်သွား၍၊ သူ
တို့သင်းချိုင်း၌သင်းဂြိုဟ်ရမည်ဟုဆို၏။ယော
သပ်ကလည်း၊ အမိန့်တော်အတိုင်းအကျွန်ုပ်
၃၁ ပြုပါမည်ဟုဝန်ခံလေ၏။– ငါ့အားကျိန်ဆိုခြင်း
ကိုပြုပါဟု ဆိုပြန်လျှင်၊ကျိန်ဆိုခြင်းကိုပြု၏။ ဣ
သရေလသည်လည်း၊ ခုတင်ခေါင်းရင်းပေါ်မှာ
ဦးညွှတ်လေ၏။

၄၈

၁ နောက်တစ်ဖန်ယောသပ်သည် အဖနာကြောင်း
ကိုကြားသဖြင့်၊ သားနှစ်ယောက်၊ မနာရှေနှင့်
၂ ဧဖရိမ်ကိုယူ၍ သွား၏။– သားယောသပ် လာ
ကြောင်းကို ယာကုပ် သည် ကြားလျှင်၊ အား
၃ ထုတ်၍ခုတင်ပေါ်မှာထိုင်၏။–ထိုအခါယာကုပ်
က၊အနန္တတန်ခိုးရှင်ဘုရားသခင်သည်၊ ခါနာန်
ပြည်လုဇမြို့၌ ငါ့အား ထင်ရှား၍၊ ကောင်းကြီး
၄ ပေးတော်မူလျက်၊– ငါသည်သင့်ကို တိုးပွား
များပြားစေမည်၊သင့်ကိုများစွာသောလူဖြစ်စေ
မည်။ သင်၏အမျိုးအနွယ်သည်သင့်နောက်မှ၊
ဤပြည်ကို အစဉ်အမြဲ ပိုင်စေခြင်းငှါ ငါပေး
၅ မည်ဟုမိန့်တော်မူ၏။–သင်နေသောအဲဂုတ္တုပြည်
သို့ငါမရောက်မှီ၊အဲဂုတ္တုပြည်၌သင်ရနှင့်သော
သားနှစ်ယောက်၊ ဧဖရိမ်နှင့်မနာရှေတို့သည်ငါ
သားဖြစ်ရမည်။ ရုဗင်နှင့်ရှိမောင်ကဲ့သို့ သော
၆ ဖြစ်ရမည်။–နောက်မှသင်ရသောသားတို့သည်
သင်၏သားဖြစ်၍မိမိအစ်ကိုတို့၏အမည်ဖြင့်
ထိုအမည်ဖြင့်သရုတ်ရကြမည်။– ငါသည်ပါဒ
နာရံအရပ်မှ လာသည်ကာလ၊ ခါနာန်ပြည်၌
ခရီးသွား၍၊ ဧဖရတ်မြို့နှင့်နီးသောအခါ၊ သင့်
အမိရာခေလသည် ငါ့နားမှာသေရှာ၏။ ထို
သောအရပ်၊ဗက်လင်အမည်ရှိသောဧဖရတ်မြို့
သို့သွားသောလမ်း၌ သင်းဂြိုဟ် လေသည်ဟု
ယောသပ်အားဆို၏။

၈ ထိုနောက်ဣသရေလသည် ယောသပ်၏သားတို့
ကိုကြည့်ရှု၍၊ ဤသူတို့ကား၊ အဘယ်သူနည်း
၉ မေးလျှင်၊– ယောသပ်က၊ ဤပြည်၌ အကျွန်ုပ်
အား ဘုရားသခင်ပေးသနားတော်မူသော အ
ကျွန်ုပ်၏သားဖြစ်ပါသည်ဟုအဘအားဆိုသော်၊
အဘက၊ ထိုသို့ လာပါစေ ထော့၊ သူတို့ကိုငါ
၁၀ ကောင်းကြီး ပေး မည်ဟု ဆို၏။– ဣသရေလ
သည်အသက်ကြီး၍မျက်စိမှုံသဖြင့်၊ မမြင်နိုင်
သောကြောင့်၊ သားတို့ကိုအနီးသို့ချဉ်းကပ်စေ
၁၁ ၍၊ ပိုက်ဖက် နမ်းရှုပ် လေ၏။– ဣသရေလက
လည်း၊ ငါသည်သင်၏မျက်နှာကို မြင်ရမည်
ဟုငါမထင်။ ယခုတွင်သင်၏သားတို့ကိုပင်၊ဘု
ရားသခင်ပြတော်မူပြီဟုယောသပ်အားဆို၏။–
၁၂ ယောသပ် သည်လည်း၊ သားတို့ကို အဘ၏ ဒူး
၁၃ ကြားမှထုတ်၍၊ အဘရှေ့၌ဦးညွှတ်ချစေ၏။–ထို
နောက်ယောသပ်သည်သားတို့ကိုယူ၍၊ ဧဖရိမ်ကို
လက်ျာလက်နှင့်ကိုင်လျက်၊ ဣသရေလ၏လက်ဝဲ
လက်သို့ရှင်၊ မနာရှေကိုလက်ဝဲလက်နှင့် ကိုင်
လျက်၊ ဣသရေလ လက်ျာလက်သို့ရှင် ချဉ်း
၁၄ ကပ်စေ၏။–မနာရှေသည်သားဦးဖြစ်သော်လည်း
ဣသရေလသည် မိမိလက်တို့ကိုဆန့်၍၊ သိစွာ
စွာပဲ့ပြင်လျက်၊အသက်ငယ်သောသူ၊ဧဖရိမ်၏
ခေါင်း ပေါ်မှာ လက်ျာလက်ကို တင်ပြီးလျှင်
လက်ဝဲလက်ကို မနာရှေ၏ ခေါင်းပေါ်မှာတင်
၁၅ ၏။–ယောသပ်ကိုကောင်းကြီးပေးလျက်၊ငါ့အဘ
အာဗြဟံနှင့်ဣဇာက် ကိုးကွယ်သောဘုရားသ
ခင်၊ ငါ့ကိုတသက်လုံးယနေ့တိုင်အောင် ကျွေး
မွေးတော်မူသောဘုရားသခင်တည်းဟူသော–
၁၆ ငါ့ကို ခပ်သိမ်းသော ဘေးဥပဒ်မှ ကယ်
နှုတ်တော်မူသောကောင်းကင်တမန်သည်၊ ဤ
သူငယ်တို့ကို ကောင်းကြီး ပေးတော် မူပါစေ
သော၊သူတို့ကိုငါ့အမည်ဖြင့်၎င်း၊ ငါ့အဘအာဗြဟံ
နှင့်ဣဇာက်၏အမည်ဖြင့်၎င်း၊ထင်၍မှည့်ပါစေ
သော၊သူတို့သည်မြေကြီးပေါ်မှာအလွန်တိုးပွား
၁၇ များပြားပါစေသောဟုမြွက်ဆို၏။– အဘသည်
လက်ျာ လက်ကို ဧဖရိမ်၏ ခေါင်းပေါ်မှာ တင်
သည်ကိုယောသပ်မြင်လျှင်၊အားမရသည်ဖြစ်
၁၈ ၍၊– မဟုတ်ပါအဖ၊ ဤသူသည်သားဦးဖြစ်ပါ
၏။သူ၏ခေါင်းပေါ်မှာ လက်ျာလက်ကို တင်ပါ
ဟုဆိုသျှက်၊ အဘ၏လက်ကို ဧဖရိမ်ခေါင်းပေါ်
က မနာရှေခေါင်းပေါ်သို့ပြောင်းခြင်းငှါ ချီလေ
၁၉ ၏။– အဘသည်ငြင်း၍၊ငါသိ၏ငါ့သားငါသိ၏။

ထွက်သွား၍ ခါလဒဲပြည်မှ ပြေးကြလော့။ ရွှင်လန်းသောအသံကို ဟစ်ကြော်လျက် ဤစကားကို နိုင်ငံများနှင့် မြေကြီးစွန်းတိုင်အောင် ကြားပြောကြလော့။ ထာဝရဘုရားသည် မိမိကျွန်ယာကုပ်ကို ရွေးနုတ်တော်မူပြီဟု ဆိုကြလော့။
(left column, opening lines as printed:)
ထူသငြ့်ကြီး၊ ရွှေ့သောလှုရုပြည်လိမ့်မည်း၊ သို့သော်
သည်။ လည်းသည်သူထက်သာ၍ ကြီးသဖြင့်၊
သူ၏ အမျိုးအနွယ်သည် များပြားသော ထူအ
၂၀ ရုရုဖြစ်လိမ့်မည်ဟု ဆို၏။– ထာဝရဘုရားသခင်
သည်သင့်ကိုအမြိမ်ကဲ့သို့၎င်း၊ မနာရှေ့ကဲ့သို့၎င်
ဖြစ်စေတော်မူပါစေသောဟူ၍၊ ဣသရေလအ
မျိုးသား တို့သည် သင့်အားဖြင့်၊ ကောင်းကြီး
ပေးကြလိမ့်မည်ဟု၊ ထိုနေ့၌ သူတို့ကို ကောင်း
ကြီးပေးလေ၏။ ထိုသို့မနာရှေ့ရှေ့မှာ အမြိမ်ကို
၂၁ နေရာချထားတည်း။– ဣသရေလကထည်း ငါ
သေ တော့မည်။ သို့သော်လည်း ဘုရားသခင်
သည်သင်တို့ထက်၌ရှိ၍၊ သင်တို့ကိုဘိုးဘေး
၂၂ ရာပြည်သို့တဖန်ဆောင်တော်မူလိမ့်မည်။– ထို
မှတပါး၊ သင်၏အစ်ကိုတို့အားပေးသည်ထက်၊
သင့်အား သာ၍ ပေးသောအရာ တူမူကား၊ ငါ
ထားလေးဖြင့်၊ အာမောရိအမျိုးသားထက်မှ
နှုတ်ယူသောအရာကို သင့်အား ငါပေးသည်
ဟုမထောသမ်တ်ပြောဆို၏။

၄၉

၁ ထိုနောက်မှ၊ ယာကုပ်သည် မိမိသားတို့ကို
ခေါ်၍၊ သင်တို့သည်စည်းဝေးကြလော့။ နောင်
ကာလအခါ၊ သင်တို့၌ဖြစ်လတ့်သော အမှုအ
၂ ရာများကိုငါပြောမည်။– ယာကုပ်၏သား
တို့၊ စည်းဝေး၍ကြားကြလော့။ အဘဣသရေလ
၏စကားကိုနားထောင်ကြလော့။
၃ ရုဗင်၊ သင်သည်ငါ့သားဦး၊ ငါ့အစွမ်းသတ္တိ၊
ငါ့ခွန်အား၏အဦး။ ဘုန်းအထွဋ်၊ တန်ခိုးအ
၄ ထွဋ်ဖြစ်၏။– သို့သော်လည်း၊ ရေကဲ့သို့ ပွက်ထ
သောသဘောရှိသည်ဖြစ်၍၊ ထူးမြတ်ခြင်းသို့မ
ရောက်ရ။ အကြောင်းမူကား၊ သင်သည်အဘ၏
အိပ်ရာကိုတက်၍ညစ်ညူးစေ၏။ ငါ့အိပ်ရာထက်
သို့တက်လေပြီတကား။
၅ ရှိမောင်နှင့်လေဝိသည် ညီအစ်ကိုဖြစ်၏။ အ
၆ ဓမ္မအမှုကိုပြုသည်အထိုင်း ဖြစ်ကြပြီ။– ငါ့
ညည်သည်သူတို့ လျှို့ဝှက်ခြင်းအမှုထဲသို့မဝင်
ရ။ ငါ့ဘုန်းသည်သူတို့စည်းဝေးရာနှင့်အသင်းမ
ဖွဲ့ရ။ သူတို့သည် အမျက်ထွက်၍လူအသက်ကို
သတ်ကြပြီ။ ကိုယ်အလိုသို့လိုက်၍ မြို့ကိုဖြိုဖျက်
၇ ကြပြီ။– သူတို့ပြင်းစွာထွက်သောအမျက်၊ ကြမ်း
တမ်းစွာသော ဒေါသသည် ကျိန်ခြင်းကိုခံပါ
စေသော။ ယာကုပ်အမျိုး၌၊ ဣသရေလအနွယ်
သားတို့ကိုခွဲ၍ ပြန့်ကြဲ၍ ပြန့်ကျဲစေမည်။

၈ ယုဒ၊ သင်သည် ညီအစ်ကိုတို့ ချီးမွမ်းရ
သောသူဖြစ်၏။ သင်၏လက်သည်သင်၏ရန်သူ
တည်ပင်းပေါ်မှာ ရှိလိမ့်မည်။ အဘ၏သားတို့
၉ သည်သင့်ရှေ့မှာဦးညွှတ်ချကြလိမ့်မည်။– ယုဒ
သည်ခြင်္သေ့ပျိုဖြစ်၏။ ငါ့သား၊ သင်သည်စားစ
ထူကိုက်စားရာမှတက်လာတတ်၏။ ဝပ်လျက်
နေ၏။ ခြင်္သေ့ကဲ့သို့၎င်း၊ ခြင်္သေ့မကဲ့သို့၎င်း၊ ဝပ်
တွားတတ်၏။ အဘယ်သူနှိုးဆော်ဝံ့မည်နည်း။–
၁၀ ရှိလောမရောက်မှီတိုင်အောင်၊ ရာဇလှံတံသည်
ယုဒထံမှ၎င်း၊ မင်းအာဏာသည်သူ၏အမျိုးအ
နွယ်ထံမှ၎င်းမရွေ့ရ။ ရှိလောနှင့်လူမျိုးတို့သည်
၁၁ စည်းကမ်း ကြ လိမ့်မည်။– မိမိမြည်းကိုစပျစ်နွယ်
ပင်၌၎င်း၊ မြည်းကလေးကို အမြတ်ဆုံးသော စပျစ်
နွယ်ပင်၌၎င်း ချည်နှောင်၍၊ မိမိအဝတ် ဝတ်လုံ
များကို စပျစ်သီး အသွေးတည်းဟူသော၊ စပျစ်
၁၂ ရည်ဖြင့်လျှော်လိမ့်မည်။– သူ၏မျက်စိသည် စ
ပျစ်ရည်နှင့်နီလိမ့်မည်။ သွားသည်လည်းနို့နှင့်
ဖြူလိမ့်မည်။
၁၃ ဇာဗုလုန်သည် ပင်လယ်ကမ်းနားမှာ နေ၍၊
သင်္ဘောဆိပ်ဖြစ်လိမ့်မည်။ သူ၏နယ်သည်ဇိဒုန်
မြို့တိုင်အောင်ကျယ်ဝန်းလိမ့်မည်။
၁၄ ဣသခါသည်တောင်ကြားမှာဝပ်လျက်အား
၁၅ ကြီးသောမြည်းဖြစ်၏။– ငြိမ်ဝပ်ရာအရပ် ကောင်း
၍၊ မြေသည်သာယာသည်ကိုမြင်သဖြင့်၊ မိမိပခုံးပေ
မှာထမ်းဘိုးကို ထင်ထမ်း၍၊ အခွန်ပေးသော
ကျွန်ဖြစ်လေ၏။
၁၆ ဒန်သည်ဣသရေလအနွယ်တစုတပါးကဲ့သို့
၁၇ မိမိလူတို့ကိုစီရင်လိမ့်မည်။–ဒန်သည်ထမ်း၌နေ
သော မြွေဖြစ် လိမ့်မည်။ မြင်း စီးသော သူကို
နောက်သို့ လဲစေခြင်းငှါ ထမ်းကြားမှာ နေ၍၊
မြင်းခြေကို ကိုက်တတ်သော မြွေဆိုးဖြစ်လိမ့်
၁၈ မည်။–ဟိုထာဝရဘုရား၊ ကယ်တင်တော်မူခြင်း
ကျေးဇူးကို၊ အကျွန်ုပ်မျှော်ထင့်လျက်နေပါပြီ။
၁၉ ဂဒ်မူကား၊ စစ်သူရဲတို့သည် သူကိုထိပ်ကြ
၍၊ သူသည်ပြန်တိုက်လိမ့်မည်။
၂၀ အာရှာ၌ ဖြစ်သော အစာသည် အရသာနှင့်
ပြည့်စုံ၍၊ မင်း၏ ခဲဖွယ် စားဖွယ်တို့ကို ထုတ်
ပေးလိမ့်မည်။
၂၁ နဿလိသည်လွှတ်သောအခတ်အထက်နှင့်ပြည့်
စုံ၍၊ ကျယ်ဝန်းသောသစ်ပင်ဖြစ်၏။
၂၂ ယောသပ်သည် သန်သောအပင်၊ ရေတွင်း
နားမှာသန်သောအပင်ဖြစ်၏။ အခက်အလက်

ထို့သဉ်အုတ်ရိုးပေါ်မှာကျော်သွားကြ၏။- လေး
သမား တို့သည် သူကို အငြိုးထား၍၊ အလွှန်
၂၄ ညှဉ်းဆဲပြစ်ခတ်ကြ၏။- သို့သော်လည်း၊သူ၏
လေးသည် အားမလျော့၊ သူကိုင်သော လက်
နက်တို့သည်၊ယာကုပ်အမျိုး၌တန်ခိုးကြီးသော
ဘုရား၏လက်ဖြင့်၎င်း၊ သိုးထိန်းတည်းဟူသော
၂၅ ဣသရေလအမျိုး၏ကျောက်ဖြင့်၎င်း၊- သင့်ကိုမ
စတော်မူသောသင့်အဖ၏ဘုရားသခင်အားဖြင့်
၎င်း၊ သင့်ကိုကောင်းကြီးပေးတော်မူသောအနန္တ
တန်ခိုးရှင်အားဖြင့်၎င်းခိုင်မာလျက်ရှိ၏။ ထိုဘု
ရားသည်အထက်မိုဃ်းကောင်းကင်၏မင်္ဂလာ၊
အောက်နက်နဲသော အရပ်၏မင်္ဂလာ၊ သမြတ်
နှင့်ဆိုင်သော မင်္ဂလာ၊ ဝမ်းနှင့် ဆိုင်သောမင်္ဂ
လာတို့ဖြင့်၊ သင့်ကိုကောင်းကြီးပေးတော်မူပါ
၂၆ စေသော။- သင်၏ အဖပေးသော ကောင်းကြီး
မင်္ဂလာသည်၊ ထာဝရ တောင်တို့၌ ဖြစ်သော
ကောင်းကြီး မင်္ဂလာ၊ ထာဝရ ကုန်းတို့၌ နှစ်
သက်ဖွယ်သော အရာတို့ထက်သာ၍ မြတ်၏။
ထိုမင်္ဂလာသည်ယောသပ်ခေါင်းပေါ်၊ မိမိအစ်
ကိုတို့တွင် အကြီးအကဲ ဖြစ်သော သူ၏ခေါင်း
ထိပ်ပေါ်မှာသက်ရောက်ပါစေသော။
၂၇ ဗင်္ယာမိန်သည် လုယူ ကိုက်စား တတ်သော
တောခွေးဖြစ်လိမ့်မည်။ ဖမ်းရသောအရာကိုနံ
နက်အချိန်၌ ကိုက်စား၍၊ လုယူသောအရာကို
ညနေအချိန်၌ဝေဖန်လိမ့်မည်ဟုမြွက်ဆို၏။
၂၈ ဤသူတို့ကား၊ ဣသရေလအမျိုးဆယ်နှစ်မျိုး
ဖြစ်၏။ ဤစကားသည်လည်းသူတို့အဖမြွက်ဆို
၍၊ သူတို့အသီးအသီးခံရသောမင်္ဂလာရှိသည်
အတိုင်း၊ကောင်းကြီးပေးသောစကားပေတည်း။
၂၉ တဖန်တုံ၊ ငါလူမျိုးစည်းဝေးရာသို့ ငါသွားရ
မည်။ဟိတ္တိအမျိုးသား၊ဧဖရုန်၏လယ်ပြင်တွင်
ရှိသောမြေတွင်း၌၊ငါအဖတို့နှင့်အတူငါကိုသင်း
၃၀ ဂြိုဟ်ကြပါ။- ခါနာန်ပြည်မံရေမြို့ရှေ့မှာ၊ မပေွ
လလယ်ပြင်၌ရှိသောထိုမြေတွင်းကို၊ အာဗြဟံ
သည် ကိုယ်ပိုင်သောသင်းချိုင်းဘို့၊ လယ်ပြင်
နှင့်တကွ ဟိတ္တိအမျိုးသားဧဖရုန်၌ ဝယ်လေ
၃၁ ပြီ။-ထိုမြေတွင်း၌အာဗြဟံနှင့်မယားစာရာကို
သင်းဂြိုဟ်ကြပြီ၊ ဣဇာက်နှင့် မယားရေဗက္က
ကိုလည်း သင်းဂြိုဟ်ကြပြီ၊ လေအာကိုလည်း
၃၂ ငါသင်းဂြိုဟ်ပြီ။- ထိုမြေတွင်းရှိသောထိုလယ်
ပြင်ကို၊ ဟေသအမျိုးသားရှေ့မှာဝယ်သတည်း
၃၃ ဟုမှာထား၏။-ထိုသို့ယာကုပ်သည်မိမိသားတို့
ကိုအကုန်အစင်မှာထားပြီးလျှင်၊ မိမိခြေတို့ကို
ခုတင်ပေါ်မှာရုပ်သိမ်းသဖြင့်၊ အသက်ချုပ်၍
မိမိလူမျိုးစည်းဝေးရာသို့ရောက်လေ၏။

၅၀

ထိုအခါယောသပ်သည် အဖ၏မျက်နှာပေါ်
၂ မှာငုံ့၍၊ ငိုလျက် နမ်းလျက် နေ၏။- အဖ၏အ
လောင်းကိုနံ့သာမျိုးနှင့်ပျွင်ဆင်စေခြင်းငှါ၊ မိမိ
ကျွန်ဆေးသမားတို့ကိုအမိန့်ရှိ၍၊ သူတို့သည်နံ့
၃ သာမျိုးနှင့် ပျွင်ဆင် ကြ၏။- နံ့သာမျိုးနှင့် ပျွင်
ဆင်သောအလောင်းကို၊ ထုံးစံရှိသည်အတိုင်း
ထား၍၊အရက်လေးဆယ်လွန်လျှင်၊အဲဂုတ္တုလူ
တို့သည် ယာတုပ်ကြောင့်၊ အရက်ခုနှစ်ဆယ်
၄ ပတ်လုံးငိုကြွေးမြည်တမ်းခြင်းကိုပြုကြ၏။- ငို
ကြွေးမြည်တမ်းသော နေ့ရက်လွန်သော အခါ၊
ယောသပ်သည်နန်းတော်သားအစုံတို့ကိုခေါ်
၍၊ သင်တို့ သည် ကျွန်ုပ် ကို စေတနာ စိတ်ရှိ
၅ လျှင်၊ ဖာရောဘုရင်ထံတော်သို့သွား၍၊-ကျွန်
တော်အဖက၊ ငါသေတော့မည်။ ခါနာန်ပြည်၌
ကိုယ်ဘို့ ငါတူးသူးသော သင်းချိုင်းတွင်း၌၊ငါ
ကိုသင်းဂြိုဟ် ရမည်ဟု၍၊ ကျွန်တော်ကို ကျိန်
ဆိုစေပါပြီ။ ထိုကြောင့်ကျွန်တော်သွား၍၊အဖ
ကိုသင်းဂြိုဟ်ပြီးမှ၊ ပြန်လာပါမည်အကြောင်း
ကို၊ အသနားတော် ခံပါ သည်ဟု၊ နားတော်
၆ လျှောက်ကြပါလော့ဟုဆို၏။- ဖာရောမင်းက
လည်း၊ သင်၏အဖ ကျိန်ဆိုစေသည် အတိုင်း
သွား၍၊သင်းဂြိုဟ်လော့ဟုမိန့်တော်မူ၏။
၇ ယောသပ် သည် အဖကို သင်းဂြိုဟ်ခြင်းငှါ
ထွက်သွား၍၊ ဖာရောမင်း၏ကျွန်များတည်းဟူ
သော၊ နန်းတော်အရာရှိ၊ အဲဂုတ္တုပြည်အရာရှိ
၈ အပေါင်းတို့နှင့်၊- ယောသပ်အိမ်သား၊အစ်ကို
တို့အိမ်သား၊ အဖအိမ်သား ရှိသမျှ တို့သည်
လိုက်ကြ၏။ သူငယ်တို့နှင့်သိုးနွားများကိုသာ၊
၉ ဂေါရှင်ပြည်၌ကျန်ရစ်စေကြ၏။- ထိုသို့လျှင်ရ
ထားများ၊ မြင်းစီးသူရဲများ၊ တည်းဟူသော၊
အလွန်များစွာသော အလုံးအရင်း တို့သည်၊
၁၀ ယောသပ်နှင့်တကွလိုက်သွားကြ၏။-ယော်ဒန်
မြစ်နားမှာ အာတဒ် ကောက်နယ် တလင်းသို့
ရောက်သောအခါ၊ အလွန်ကြီးစွာသောငိုကြွေး
မြည်တမ်းခြင်းကိုပြုကြပြန်၏။ ယောသပ်သည်
မိမိအဖကြောင့်၊ခုနှစ်ရက်ပတ်လုံးငိုကြွေးမြည်
၁၁ တမ်းခြင်းကိုပြုလေ၏။-ထိုသို့အာတဒ်ကောက်
နယ်တလင်း၌ပြုသော၊ ငိုကြွေးမြည်တမ်းခြင်း

ကိုးဆိုပြီးသားခါ၊နှင့်လူထိုသည်မြင်လျှင်၊အဲ
ဂုတ္တုလူတို့သည်ပြင်း၍ငိုကြွေးမြည်တမ်းပါ
သည်တကားဟုဆိုကြ၏၊ ထိုကြောင့် ယော်ဒန်
မြစ်နားမှာရှိသောထိုအရပ်ကို၊အာဗေလမိဇရိမ်
၁၂ ဟူ၍ သမုတ်ကြသတည်း။- ယာကုပ်သားတို့
၁၃ သည်၊အဘမှာထားသည်အတိုင်းပြုကြ၏။- ခါ
နာန်ပြည်သို့ဆောင်သွား၍၊ အာဗြဟံသည်ကိုယ်
ပိုင်သောသင်္ချိုင်းဆိုး၊ ဟိတ္တိအမျိုးသား ဧဖ
ရုန်၌ ဝယ်သော မံရေရှေ့ရှု၊ မခွေလာလယ်ပြင်
၁၄ တွင်ရှိသောမြေတွင်း၌သင်္ဂြိုဟ်ကြ၏။-ယော
သပ်သည် အဘကိုသင်္ဂြိုဟ်ပြီးလျှင်၊ အစ်ကို
များမှစ၍၊မသာလိုက်သွားသောသူအပေါင်းတို့
နှင့်တကွ၊အဲဂုတ္တုပြည်သို့ပြန်လေ၏။
၁၅ ယောသပ်အစ်ကိုတို့သည် အဘသေသည်ကို
သိမြင်လျှင်၊ငါတို့ကိုယောသပ်သည်အငြိုးထား
ကောင်းထားလိမ့်မည်၊ငါတို့သည်အထက်က၊
သူကိုညှဉ်းဆဲသောကြောင့်၊ ငါတို့အားကောန်
အမှန်ပြန်၍ညှဉ်းဆဲလိမ့်မည်ဟု မိုးရိပ်လျှက်၊-
၁၆ သူထံသို့တမန်ကိုစေလွှတ်၍၊ကိုယ်တော်အစ်ကို
၁၇ တို့သည် မကောင်းသော အမှုကို ကိုယ်တော်
အားပြုမိ၍၊ ကိုယ်တော်ကိုပြစ်မှားသောအပြစ်
ကို လွှတ်တော်မူပါလော့၊ ကိုယ်တော်အားကြား
လျှောက်ရမည်အကြောင်း၊ခမည်းတော်မသေ
မှီ ကျွန်တော်တို့ကို မှာထားခဲ့သည်ဖြစ်၍၊ ထာဝ
ရာ ခမည်းတော်၏ ဘုရားသခင် ကျွန်တို့၏အ
ပြစ်ကိုလွှတ်တော်မူပါဟုလျှောက်ကြ၏၊ ထိုသို့
လျှောက်ကြသောအခါ၊ ယောသပ်သည် မျက်
၁၈ ရည်ကျလေ၏။- အစ်ကိုတို့သည်လည်း၊ ဝင်၍
ယောသပ်ရှေ့မှာပြပ်ဝပ်လျှက်၊ ကျွန်တော်တို့
သည် ကိုယ်တော်၏ ကျွန် ဖြစ်ကြပါသည်ဟု လျှော
၁၉ လျှောက်ကြ၏။- ယောသပ်ကလည်း၊ မစိုးရိမ်
ကြနှင့်၊ကျွန်ုပ်သည်ဘုရားသခင်ကိုယ်စားဖြစ်သ
၂၀ လော။-သင်တို့သည်ကျွန်ုပ်ကိုညှဉ်းဆဲမည်ကြံ
ကြသော်လည်း၊ ဘုရားသခင်သည် ယနေ့ဖြစ်
သည့်အတိုင်း၊ လူများအသက်ရှင်သာစေခြင်း
၂၁ ငှါ ကောင်းရာ ပြုမည် ကြံတော်မူ၏။- ထိုကြောင့်၊
စိုးရိမ် ကြနှင့်၊ သင် တို့နှင့် သူ ငယ် များ ကို
ကျွန်ုပ် ကျွေးမွေးမည်ဟုဆိုလျှက်၊ သူတို့ကိုနှစ်
သိမ့်စေ၍မေတ္တာစကားကိုပြောလေ၏။
၂၂ ထိုသို့ယောသပ်သည်၊ မိမိအဆွေအမျိုးသား
တို့နှင့်၊ အဲဂုတ္တုပြည်၌နေ၍၊ အသက်တရာအ
၂၃ ဆယ်ကိုရှိ၏။- ဧဖရိမ်၏မြေးကိုမြင်ရ၏၊ မနာ
ရှေ၏သား၊ မာခိရ၏သားတို့ကိုလည်း၊မိမိဒူး
ပေါ်မှာမွေးစားရ၏။
၂၄ ယောသပ်ကလည်း။ ကျွန်ုပ် သေတော့မည်။
အကယ်စင်စစ် ဘုရားသခင်သည် သင်တို့ကိုအ
ကြည့်အရှုကြွလာတော်မူမည်၊ အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ်တို့အား ကျိန်ဆိုတော်မူသော
ပြည်သို့၊ ဤပြည်မှ ဆောင်သွားတော် မူမည်ဟု
၂၅ အစ်ကို တို့အား ဆို၏။- တဖန်တုံ၊ အကယ်စင်
စစ် ဘုရားသခင်သည် သင်တို့ကိုအကြည့်အရှု
ကြွလာ တော်မူမည်၊ ကျွန်ုပ် အရိုးတို့ကို ဤအ
ရပ်မှ ယူသွား ရမည်ဟူ၍၊ ဣသရေလ အမျိုး
၂၆ သား တို့ကို ကျိန်ဆို စေ၏။- ထိုသို့ ယောသပ်
သည် အသက် တရာ တဆယ် ရှိသော် အနိစ္စ
ရောက်လေ၏၊ အလောင်းကိုကားနံ့သာမျိုးနှင့်
ပွန်းသင်ပြီးလျှင်၊ အဲဂုတ္တု ပြည်၌ ထားနှင့်
ထားကြလေ၏.

ရှင်မောရှေမိရင်ရေးထားသောကမ္ဘာဦးကျမ်းပြီး၏။

# ထွက်မြောက်ရာကျမ်း။

## EXODUS

၁ မိမိတို့ အိမ်သူ အိမ်သားပါလျှက်၊ အဘယာ
ကုပ်နှင့်အတူ အဲဂုတ္တုပြည်သို့ရောက်လာသော
၂ ဣသရေလသားတို့၏အမည်ဟူမူကား၊-ရုဗင်၊
၃ ရှိမောင်၊ လေဝိ၊ ယုဒ၊- ဣသခါ၊ ဇာဗုလုန်၊
၄ ဗင်္ယာမိန်၊- ဒန်၊ နဿလိ၊ ဂဒ်၊ အာရှာတည်း။-
၅ ယာကုပ် အမျိုးသား ပေါင်း ကား ခုနစ်ဆယ်
တည်း။ ယောသပ်သည် အဲဂုတ္တုပြည်၌ ရှိနှင့်
ထတည်း။
၆ ယောသပ်နှင့်အစ်ကိုများမှစ၍၊ ထိုကာလအ
၇ မျိုးသားအပေါင်းတို့သည်သေကြကုန်၏။- ဣ
သရေလအမျိုးသားတို့သည်သားကိုဖွား၍ အ

ဖွားနှိပ်ထိုး ပွားများပြားသဖြင့်၊ အလွန်အားကြီး
၍တပြည်လုံး၌နှံ့ပြားကြလေ၏။
၈ ထိုနောက်မှအဲဂုတ္တုပြည်၌ယောသပ်ကိုမသိ
၉ သောရှင်ဘုရင်သစ်ပေါ်လာ၏-ထိုရှင်ဘုရင်က
လည်း၊ ဣသရေလအမျိုးသားတို့သည်၊ ငါတို့
ထက်သာ၍များကြ၏၊ သာ၍အားကြီးကြ၏-
၁၀ လာကြ၊ သူတို့ကိုလိမ္မာစွာပြုကြစို့၊ သို့မဟုတ်၊
သူတို့သည်များပြားကြလိမ့်မည်၊ နောက်တခါ
စစ်မှုရောက်လျှင်၊ ငါတို့ရန်သူဘက်သို့ဝင်စား
၍၊ငါတို့ကိုတိုက်သဖြင့်၊ပြည်တော်ထဲကထွက်
သွားကြလိမ့်မည်ဟု၊မိမိလူတို့အားဆိုလေ၏-
၁၁ ထိုကြောင့် အဲဂုတ္တုမင်းတို့သည်၊ ကြပ်တည်း
စွာနှိပ်စက်ညှဉ်းဆဲစေခြင်းငှါ၊ အကုပ်အချုပ်
ခန့်ထားကြ၏၊ ဣသရေလလူတို့သည်၊ ဘဏ္ဍာ
တော်သိုထားတို့၊ ပိသုံမြို့နှင့် ရာမသက် မြို့ကို
၁၂ တည်ဆောက်ရကြ၏-သို့သော်လည်း၊နှိပ်စက်
ခြင်းကို ခံရသည်အတိုင်း၊ ထိုး ပွား များပြား
လျှက်ရှိကြ၏၊သူတို့ကြောင့်အဲဂုတ္တုလူတို့သည်
၁၃ စိတ်ညစ်၍၊- အလွန်ကြမ်းတမ်းစွာညှဉ်းဆဲ
၁၄ ကြ၏၊- အရွှံ့နှင့်အုတ်လုပ်သောအမှု၊လယ်
လုပ်သောအမှုအမျိုးမျိုး၌ ခဲယဉ်းစွာစေခိုင်း၍၊
အလွန်ဆင်းရဲပင်ပန်းစေကြ၏၊ စေခိုင်းလေရာ
ရာ၌လည်း၊ခဲယဉ်းစွာစေခိုင်းကြ၏၊
၁၅ ရှိဖရနှင့်ပုအာအမည်ရှိသော ဟေဗြဲဝမ်းဆွဲ
၁၆ မတို့ကို၊ အဲဂုတ္တု ရှင်ဘုရင်က၊- သင်တို့သည်
ဟေဗြဲမိန်းမတို့အားဝမ်းဆွဲလုပ်၍၊ မွေးရာအရပ်
၌စောင့်နေသောအခါ၊ယောကျ်ားဖြစ်လျှင်သေ
စေ၊ မိန်းမဖြစ်လျှင်အသက်ရှင်စေဟု အမိန့်တော်
၁၇ ရှိ၏-ဝမ်းဆွဲမတို့သည်ဘုရားသခင်ကိုကြောက်
ရွံ့၍၊အဲဂုတ္တုရှင်ဘုရင်မိန့်တော်မူသည်အတိုင်း
မပြု၊ ယောကျ်ားတို့ကိုအသက်ချမ်းသာပေးကြ
၁၈ ၏-အဲဂုတ္တုရှင်ဘုရင်သည်လည်း၊ဝမ်းဆွဲမတို့
ကိုခေါ်၍၊သင်တို့သည်အဘယ်ကြောင့်ဤသို့ပြု
သနည်း၊ ယောကျ်ားတို့ကို အဘယ်ကြောင့် အ
သက် ချမ်းသာ ပေးသနည်းဟု မေးစစ်သော်၊-
၁၉ ဝမ်းဆွဲမတို့က၊ ဟေဗြဲမိန်းမတို့သည်၊အဲဂုတ္တုမိန်း
မကဲ့သို့မဟုတ်၊ သန်စွမ်းသောကြောင့်၊ ဝမ်းဆွဲ
မ မရောက်မှီ သားကို ဖွားတတ် ကြ၏ ဟု ပြန်
၂၀ လျှောက်လေ၏- ထိုကြောင့်ဘုရားသခင်သည်
ဝမ်းဆွဲမတို့ကို ကျေးဇူးပြုတော်မူ၏၊ ထိုလူအ
မျိုး လည်းလည်းများပြား၍၊ အလွန်အားကြီး
၂၁ ကြလေ၏- ဝမ်းဆွဲမတို့သည် ဘုရားသခင်ကို
ကြောက် ရွံ့သောကြောင့်၊ သူတို့ အိမ်သူအိမ်
၂၂ သားများကို ပြုစုတော်မူ၏- ဖာရောဘုရင်က
လည်း၊ ဣသရေလအမျိုးသားတို့တွင်၊ဖွားမြင်
သော သူငယ်ယောကျ်ားအပေါင်းတို့ကိုမြစ်ထဲ
သို့ချပစ်ကြ၊ မိန်းမကိုမူကား၊ အသက် ရှင်စေဟု
မိမိလူအပေါင်းတို့ကိုမှာထားတော်မူ၏။

## ၂

၁ ထိုကာလ၌လေဝိအမျိုးသားတယောက်လည်း၊
၂ လေဝိအမျိုးသမီးနှင့် အိမ်ထောင်ဖက်ပြု၍၊- မိန်း
မသည် ပဋိသန္ဓေ ယူသဖြင့်၊ သား ယောကျ်ား
ကို ဖွားမြင်လေ၏၊ ထိုသားသည် အဆင်း လှ
ကြောင်းကိုအမိမြင်လျှင်၊ သုံးလပတ်လုံးဖွက်
၃ ထားလေ၏၊- နောက်တဖန် ဖွက်၍ မထားနိုင်
သောအခါ၊ ဂမာကိုင်းပင်ဖြင့်ရက်သောပုခက်
ကိုယူ၍၊ ရေညှိနှင့်သစ်စေးဖြင့်လူးပြီးလျှင်၊ ပု
ခက်ထဲတွင် သူငယ်ကို ထည့်၍၊ မြစ်ကမ်းနား
၄ ကိုင်းတော၌ထားလေ၏-သူငယ်အစ်မလည်း၊
အဘယ်သို့ဖြစ်မည်ကိုသိမြင်ခြင်းငှါ၊အဝေး၌
၅ ရပ်နေလေ၏၊- ဖာရောဘုရင်၏သမီးတော်သည်၊
ရေချိုးခြင်းငှါ ဆင်းလာ၍၊ ကျွန်မ တို့နှင့် မြစ်
ကမ်းနား၌လှည့်လည်စဉ်၊ကိုင်းတော၌ပုခက်ကို
မြင်၍၊ ဆောင်ယူစေခြင်းငှါကျွန်မ လစေသော
၆ ကိုစေလွှတ်လေ၏၊-ပုခက်ဖုံးကိုဖွင့်သောအခါ၊
ငိုလျှက်နေသောသူငယ်ကိုမြင်၍၊ သနားသော
စိတ်ရှိလျှင်၊ ဤသူငယ်သည် ဟေဗြဲအမျိုးဖြစ်
၇ လိမ့်မည်ဟု ဆိုပြီးသော်၊- သူငယ်၏အစ်မက၊
ကိုယ်တော် အတွက်၊ သူငယ်ကို ထိန်း ရသော
ဟေဗြဲအထိန်းကို၊ ကျွန်မသွား၍ခေါ်ရပါမည်
လောဟု၊ ဖာရော ဘုရင်၏ သမီး တော်အား မေး
၈ လျှောက်၍၊- မင်းသမီးက သွားလော့ဟု အခွင့်
ပေးလျှင်၊ မိန်းမငယ်သွား၍ သူငယ်၏အမိကိုခေါ်
လေ၏၊
၉ ဖာရောဘုရင်၏သမီးတော်က၊ဤသူငယ်ကိုယူ
သွား၍ ငါ့ဘို့ထိန်းလော့၊ အခကိုငါပေးမည်ဟု
မှာထားသည်အတိုင်း၊ ထိုမိန်းမသည် သူငယ်ကို
၁၀ ယူသွား၍ထိန်းလေ၏၊- သူငယ်ကြီးပွားသော
အခါ၊ ဖာရောဘုရင်၏သမီးတော်ထံသို့ ပို့ဆောင်
၍၊ မင်းသမီးသည်သားအရာ၌ ခန့်ထားလျှက်၊
မောရှေအမည်ဖြင့်မှည့်၏၊ အကြောင်းမူကား
ရေထဲကငါနှုတ်ယူသည်ဟုဆိုသတည်း။
၁၁ မောရှေသည်ကြီးသောအခါ၊မိမိအမျိုးသား
ချင်းတို့ရှိရာသို့သွား၍၊ သူတို့ ထမ်းထစ်နေသော

ဆင်းရဲခြင်းအရာတို့ကိုကြည့်ရှုလေ၏။ မိမိအမျိုးသား
ဖြစ်သောဟေဗြဲလူတယောက်ကို၊ အဲဂုတ္တုလူရိုက်သည်
၁၂ ကိုမြင်လျှင်၊- ပတ်ပတ်လည်ကြည့်ရှု၍၊ အဘယ်သူ
မျှ မရှိသည်ကို သိသောအခါ၊ အဲဂုတ္တု လူကို
၁၃ သတ်၍၊ သဲထဲ၌မြှုပ်ထားလေ၏။ နက်ဖန်နေ့၌
ထွက်ပြန်သော်၊ ဟေဗြဲလူနှစ်ယောက်တို့သည်
အချင်းချင်းသတ်ကြသည်ကိုမြင်လျှင်၊ ထင်သဘော
ထင်၏ အပေါင်းအဖော်ကို၊ အဘယ်ကြောင့်
ရိုက်သနည်းဟု၊ ညှဉ်းဆဲသောသူအား မေး
၁၄ သည်ရှိသော်၊- ထိုသူက၊ အဘယ်သူသည်သင့်
ကိုငါတို့အပေါ်မှာ၊ အကဲအမှူး တရားသူကြီး
အရာ၌ခန့်ထားသနည်း။ အဲဂုတ္တုလူကိုသတ်သ
ကဲ့သို့၊ ငါ့ကိုသတ်လိုသလောဟုပြန်ဆို၏။ ထိုအ
ခါ မောရှေသည်မိမိပြုသောအမှု ထင်ရှားပြီဟု
၁၅ ထိ၍ကြောက်လေ၏။ ထိုသိတင်းကိုဖာရောဘု
ရင် ကြားသောအခါ၊ မောရှေကို သတ်ခြင်းငှါ
ရှာကြံလေ၏။ မောရှေသည် ဖာရောဘုရင်ထံမှ
ထွက်ပြေး၍၊ မိဒျန်ပြည်သို့ရောက်လျှင်၊ ရေတွင်း
နားမှာထိုင်၍နေလေ၏။
၁၆ ထိုအခါ၊ မိဒျန်ယဇ်ပုရောဟိတ်၏သမီးညီအစ်
မခုနစ်ယောက်တို့သည်၊ မိမိတို့အဘ၏သိုးဆိတ်
များကို ရေတိုက်ခြင်းငှါလာ၍ ရေခပ်ပြီးလျှင်၊
၁၇ ရေသောက်ခွက်တို့၌လောင်းကြ၏။ သိုးထိန်း
အချို့တို့သည်လာ၍သိုးဆိတ်များကိုမောင်းကြ
၏။ ထိုအခါမောရှေသည်ထ၍၊ ထိုမိန်းမတို့ဘက်၌
၁၈ နေလျက်၊ သိုးဆိတ်များကိုရေတိုက်လေ၏။ ထို
မိန်းမတို့သည် အဘရွေလထံသို့ ရောက်ကြသော်၊
အဘက၊ အဘယ်ကြောင့် ယနေ့ အလျင်အမြန်
၁၉ ရောက်လာရကြသနည်းဟုမေးလေ၏။ သူတို့
ကလည်း၊ အဲဂုတ္တု လူ တယောက်သည်၊ အ
ကျွန်ုပ်တို့ကို သိုးထိန်းတို့လက်မှ ကယ်နုတ်၍၊
ရေလိုသမျှကို ခပ်သဖြင့်၊ သိုးဆိတ်များကိုရေ
၂၀ တိုက်ပါသည်ဟု ပြန်ပြော၏။- အဘကလည်း၊
ထို သူ သည် အဘယ် မှာ ရှိ သနည်း။ အဘယ်
ကြောင့်သူကိုပြစ်ထားခဲ့သနည်း။ အစာစားစေ
၂၁ ခြင်းငှါသူကိုခေါ်ချကြဟုဆိုလေ၏။- မောရှေ
သည် ထိုသူ ထံမှာနေ၍ ပျော်မွေ့သဖြင့်၊ ထိုသူသမီး
ဇိပေါရကိုမောရှေအားထိန်းမြားပေးစားလေ၏။-
၂၂ ထိုမိန်းမသည်သားကိုဖွားသောအခါ ဂေရရှုံအမည်ဖြင့်မှည့်
၏။ အကြောင်းမူကား၊ ငါသည်တကျွန်းတနိုင်ငံ
၌ ဧည့်သည်အာဂန္တုဖြစ်ရပြီဟုဆိုသတည်း။
၂၃ ကာလအင်တန်ကြာပြီးမှ၊ အဲဂုတ္တုရှင်ဘုရင်
အနိစ္စရောက်လေ၏။ ဣသရေလအမျိုးသားတို့
သည်၊ အစေကျွန်ခံရသောကြောင့်၊ ညည်းတွား
ငိုကြွေးကြ၏။ ထိုသို့အစေကျွန်ခံ၍ငိုကြွေးသော
အသံသည်၊ ဘုရားသခင်ထံတော်သို့တက်ရောက်
၂၄ လေ၏။- သူတို့ညည်းတွားမြည်တမ်းခြင်းအသံ
ကိုဘုရားသခင်ကြားတော်မူလျှင်၊ အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ်နှင့်ဖွဲ့ခဲ့သောပဋိညာဉ်ကို
၂၅ အောက်မေ့တော်မူ၏။- ဘုရားသခင်သည်လည်း။
ဣသရေလ အမျိုးသားတို့ကို ကြည့်ရှု၍၊ သူတို့
အမှုကိုဆင်ခြင်တော်မူ၏။

၃

၁ မောရှေသည်၊ မိမိယောက္ခမ မိဒျန်ယဇ်ပုရော
ဟိတ်ယေသရော၏သိုးဆိတ်များကိုထိန်းစဉ်၊
တောနောက်ထက်သို့ဆောင်သွား၍၊ ဟောရပ်
အမည်ရှိသောဘုရားသခင်၏တောင်သို့ရောက်
၂ လေ၏။- ထိုအခါ၊ ဘုရားသခင်၏ကောင်းကင်တ
မန်သည် ချုံထဲက ထွက်သောမီးလျှံ၌ထင်ရှား၏။
မောရှေသည်ကြည့်သောအခါ၊ မီးလောင်၍ချုံ
၃ မကျွမ်းဘဲရှိသည်ကိုမြင်လျှင်၊- အဘယ်ကြောင့်
ချုံမကျွမ်းဘဲရှိသနည်း။ ဤထူးဆန်းသောရူပါရုံ
၄ ကို ငါသွား၍ ကြည့်ရှုမည်ဟု ဆို၏။- မောရှေ
သွား၍ကြည့်ရှုကြောင်းကို ထာဝရဘုရားမြင်
တော်မူလျှင်၊ မောရှေ၊ မောရှေဟု ချုံထဲကခေါ်
တော်မူ၏။ မောရှေကလည်း၊ အကျွန်ုပ်ရှိပါ၏ဟု
၅ လျှောက်လေ၏။- ဘုရားသခင်ကလည်း၊ မချဉ်း
နှင့်။ သင်၏ခြေနင်းကိုချွတ်လော့။ သင်နင်းသော
အရပ်ကား၊ သန့်ရှင်းသော မြေဖြစ်သည် ဟူ၍
၆ ၎င်း၊- ငါသည် သင့်အဘ၏ဘုရား၊ အာဗြဟံ၏
ဘုရား၊ ဣဇာက်၏ဘုရား၊ ယာကုပ်၏ဘုရားဖြစ်
သည် ဟူ၍၎င်း၊ မိန့်တော်မူ၏။ မောရှေ သည်
ဘုရားသခင်ကို မကြည့်ဝံ့၊ မိမိမျက်နှာကိုဖုံး
လျက်နေ၏။
၇ ထာဝရဘုရားကလည်း၊ အဲဂုတ္တုပြည်၌ရှိ
သော ငါ၏လူတို့ခံရသော ညှဉ်းဆဲခြင်းကို ငါ
ဧကန်မြင်ခဲ့ပြီ၊ သူတို့ကိုစေခိုင်းသော သခင်တို့
ကြောင့်၊ သူတို့မြည်တမ်းသောအသံကိုလည်း
ငါကြားခဲ့ပြီ၊ သူတို့ခံရသောဝေဒနာကိုငါ
၈ သိ၏။- သူတို့ကို အဲဂုတ္တုပြည်၊ အဲဂုတ္တုလူတို့
လက်မှကယ်နုတ်၍၊ ခါနနိလူ၊ ဟိတ္တိလူ၊ အာ
မောရိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူတို့နေ
ရာ၊ နို့နှင့်ပျားရည်စီးတတ်သောပြည်သို့ ပို့ဆောင်
၉ ခြင်းငှါငါဆင်းလာပြီ။- ယခုတွင်လည်း၊ ဣသရေ

ထအမျိုးသား ထိုမိကျွေးသောအသံသည် ငါ့
ထံသို့ တက်ရောက်၍၊ သူတို့ကိုအဲဂုတ္တုလူတို့သည်
၁၀ ညှဉ်းဆဲ ခြင်းအမှုကိုလည်း ငါမြင်ရပြီ။— ထို
ကြောင့်ယခုသွားလော့၊သင်သည်ငါ၏လူဣသ
ရေလ အမျိုးသားတို့ကို၊ အဲဂုတ္တုပြည်မှ နှုတ်
ဆောင်မည်အကြောင်း၊ သင့်ကို ဖာရောဘုရင်
ထံသို့ငါစေလွှတ်မည်ဟုမိန့်တော်မူ၏။
၁၁ မောရှေကလည်း၊ အကျွန်ုပ်သည်အဘယ်သို့
သောသူဖြစ်၍၊ ဖာရောဘုရင်ထံသို့ ဝင်သဖြင့်၊
ဣသရေလ အမျိုးသားတို့ကို အဲဂုတ္တု ပြည်မှ
နှုတ်ဆောင်ရပါမည်နည်းဟု၊ဘုရားသခင်အား
၁၂ လျှောက်လျှင်၊ ဘုရားသခင်က၊ အကယ်စင်စစ်
ငါသည် သင့်အတူရှိမည်။ ငါသည်သင့်
ကို စေလွှတ် ခြင်းသက္ခ ဏာ သက်သေ ဟူမူ
ကား၊ သင်သည် ထိုလူတို့ကိုအဲဂုတ္တုပြည်မှနှုတ်
ဆောင်ပြီးလျှင်၊ ဤတောင်ပေါ်မှာဘုရားသခင်
အား ဝတ်ပြုရကြလိမ့်မည်ဟု မိန့်တော်မူ၏။—
၁၃ မောရှေကလည်း၊ အကျွန်ုပ်သည်ဣသရေလအ
မျိုးသားတို့ ရှိရာသို့ရောက်၍၊ သင်တို့ဘိုးဘေး
များ၏ ဘုရားသခင်သည်၊ ငါ့ကိုသင်တို့ရှိရာသို့
စေလွှတ်တော်မူပြီဟု အကျွန်ုပ်ဆိုလျှင်၊ သူတို့
က၊ ထိုဘုရားသခင်၏နာမတော်ကားအဘယ်သို့
နည်းဟု၊ အကျွန်ုပ်ကိုပြန်၍မေးသောအခါ၊ အ
ဘယ်သို့ ပြန်ပြောရပါမည်နည်းဟု၊ ဘုရားသ
၁၄ ခင်အားမေးလျှောက်လေ၏။— ဘုရားသခင်က
လည်း၊ ငါဖြစ်သည်အတိုင်း ငါဖြစ်၏ဟူ၍၎င်း၊
ငါ ဖြစ်သည်ဟု အမည်ရှိသော သူသည်၊ ငါ့ကို
သင်တို့ရှိရာသို့ စေလွှတ်တော်မူပြီဟု၊ ဣသရေ
လအမျိုးသားတို့အား ပြန်ပြောလော့ဟူ၍၎င်း၊
မောရှေအားမိန့်တော်မူ၏။
၁၅ တဖန်ဘုရားသခင်က၊ သင်တို့ဘိုးဘေးများ၏
ဘုရားသခင်၊ အာဗြဟံ၏ဘုရား၊ ဣဇာက်၏ဘု
ရား၊ ယာကုပ်၏ဘုရားတည်းဟူသော၊ ထာဝရ
ဘုရားသည်၊ ငါ့ကိုသင်တို့ရှိရာသို့စေလွှတ်တော်
မူပြီဟု၊ ဣသရေလ အမျိုးသားတို့အား ပြောရ
မည်။ ထိုအမည်သည် အစဉ်အမြဲ အမည်ဖြစ်၏။
လူမျိုး အစဉ်အဆက်မပြတ် ငါ့ဘွဲ့နာမဖြစ်၏။—
၁၆ သွား၍ ဣသရေလအမျိုး အသက်ကြီးသူတို့ကို
စုဝေးစေပြီးလျှင်၊ သင်တို့ဘိုးဘေးများ၏ဘုရား
သခင်၊ အာဗြဟံ၏ ဘုရား၊ ဣဇာက်၏ ဘုရား၊
ယာကုပ်၏ဘုရားတည်းဟူသော၊ ထာဝရဘုရား
သည် ငါ့အားထင်ရှားတော်မူလျက်၊ အကယ်စင်

စစ်သင်တို့ကိုငါအကြည့်အရှုလာ၍၊ အဲဂုတ္တု
ပြည်၌ သင်တို့အား ပြုသောအမှုကို ငါမြင်ပြီ။—
၁၇ အဲဂုတ္တုပြည်၌ ခံရသော ဒုက္ခထဲကသင်တို့ကို
ငါနှုတ်၍၊ ခါနနိလူ၊ ဟိတ္တိလူ၊ အာမောရိလူ၊ ဖေ
ရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူတို့နေရာ၊ နို့နှင့်ပျား
ရည်စီးတတ်သောပြည်သို့ ပို့ဆောင်မည်ငါဝံ့ထိ
မှိ သည်ဟု မိန့်တော် မူပြီဟု၊ သူတို့အား ပြော
၁၈ လော့။— သူတို့သည်သင်၏စကားကိုနားထောင်
၍၊ သင်သည် ဣသရေလအမျိုးသားအသက်ကြီး
သူများပါလျက်၊ အဲဂုတ္တုရှင်ဘုရင်ထံသို့ဝင်သ
ဖြင့်၊ ဟေဗြဲလူတို့၏ဘုရားသခင် ထာဝရဘုရား
သည်၊ အကျွန်ုပ်တို့နှင့်တွေ့တော်မူပြီ။ အကျွန်ုပ်
တို့၏ ဘုရားသခင် ထာဝရ ဘုရားအား ယဇ်ပူ
ဇော်ခြင်းငှါ၊ တောသို့သုံးရက်ခရီးသွားရသော
၁၉ အခွင့်ကိုပေးတော်မူပါဟုလျှောက်ရမည်။— အဲ
ဂုတ္တုရှင်ဘုရင်သည် ကြီးစွာသော တန်ခိုးကို
မတွေ့ မမြင်လျှင်၊ သွားရသော အခွင့်ကို သင်
၂၀ တို့အား မပေး ကြောင်းကို ငါသိ၏။— ငါသည်
လည်း လက်ကိုဆန့်၍၊ အဲဂုတ္တုပြည်ထဲ၌ငါပြု
သတည်းသော၊ ငါ၏အံ့ဩဘွယ်သောအမှုခပ်သိမ်းတို့နှင့်
ထိုပြည်ကိုဒဏ်ခတ်မည်။ ထိုနောက်အဲဂုတ္တု
၂၁ ရှင်ဘုရင်သည်သင်တို့ကိုလွှတ်လိမ့်မည်။— ထိုလူ
မျိုးသည် အဲဂုတ္တုလူတို့ထံ၌ မျက်နှာရသော
အခွင့်ကိုငါပေး၍၊ သင်တို့သည်ထွက်သွားသော
၂၂ အခါ၊ လက်ချည်းမသွားရကြ။— အကြောင်းမူ
ကား၊ မိန်းမတိုင်း မိမိ အိမ်နီးချင်း၊ မိမိ အိမ်မှာ
တည်းသောသူ၌၊ ငွေတန်ဆာ၊ ရွှေတန်ဆာနှင့်
အဝတ် တန်ဆာ များကို တောင်း၍၊ သင်တို့
သား သမီး များကို တန်ဆာ ဆင်စေ သဖြင့်၊ အဲ
ဂုတ္တု လူတို့၏ ဥစ္စာကို လုယူကြလိမ့်မည်ဟု၊
မောရှေအားမိန့်တော်မူ၏။

၄

၁ မောရှေကလည်း၊ ထိုသူတို့သည်အကျွန်ုပ်ကို
မယုံ၊ အကျွန်ုပ်စကားကိုနားမထောင်ဘဲနေ၍၊
ထာဝရဘုရားသည်သင့်အားထင်ရှားတော်မမူ
ဟု ဆိုကြပါလိမ့်မည်ဟု ပြန်လျှောက် လေ၏။—
၂ ထာဝရဘုရားကလည်း၊ သင်၏လက်၌အဘယ်
အရာရှိသနည်းဟုမေးတော်မူလျှင်၊ လှံတံရှိပါ၏
၃ ဟုလျှောက်၏။— မြေပေါ်မှာပစ်ချလော့ဟု မိန့်
တော်မူသည်အတိုင်း၊ ပစ်ချသဖြင့်၊ လှံတံသည်
မြွေဖြစ်၍၊ မောရှေသည် ထွက်ပြေးလေ၏။—
၄ ထာဝရဘုရားကလည်း၊ သင့်လက်ကိုဆန့်၍ ၎

အမြီးကိုကိုင်ဆွဲလော့ဟု မိန့်တော်မူသည်အ
တိုင်း၊ မောရှေသည် လက်ကိုဆန့်၍ ဖမ်းမိသ
၅ ဖြင့်၊ လက်၌ လှံတံဖြစ်ပြန်လေ၏။– ထိုသို့ပြု
လျှင်သူတို့ဘိုးဘေးများ၏ ဘုရားသခင်၊ အာဗြ
ဟံ၏ ဘုရား၊ ဣဇာက် ၏ ဘုရား၊ ယာကုပ် ၏
ဘုရားတည်းဟူသော၊ထာဝရဘုရားသည်သင့်
အားထင်ရှားတော်မူကြောင်းကို၊ထိုသူတို့သည်
ယုံကြည်လိမ့်မည်ဟုမိန့်တော်မူ၏။
၆ တဖန်ထာဝရဘုရားက၊ သင်၏လက်ကိုသင်
၏ရင်ခွင်သို့သွင်းလော့ဟု မိန့်တော်မူသည်အ
တိုင်း၊လက်ကိုရင်ခွင်သို့သွင်း၍ထုတ်ပြန်သော
အခါ၊ လက်သည် မိုဃ်းပွင့် အဆင်း ကဲ့သို့ နူ
၇ လေ၏။– တဖန် သင်၏လက်ကို သင့်ရင်ခွင် သို့
သွင်းပြီးလော့ဟု မိန့်တော်မူသည်အတိုင်း၊ တ
ဖန်လက်ကိုရင်ခွင်သို့သွင်း၍ထုတ်ပြန်သောအ
၈ ခါ၊ ပကတိအသား ဖြစ်ပြန်လေ၏။– ထိုသူ တို့
သည်သင့်ကိုမယုံ၊ ပဌမနိမိတ်သက်သေကိုနား
မထောင်လျှင်၊နောက်ဖြစ်သောနိမိတ်သက်သေ
၉ ကိုယုံကြည်လိမ့်မည်။– သို့မဟုတ်၊ ထိုနိမိတ်နှစ်
ပါးကိုမယုံ၊ သင်၏စကားကိုနားမထောင်လျှင်၊
သင်သည် မြစ်ရေအချို့ကိုယူ၍၊ ကုန်းပေါ်မှာ
သွန်းလော့၊ ထိုသို့မြစ်ထဲက ယူသော ရေသည်
ကုန်းပေါ်မှာအသွေးဖြစ်လိမ့်မည်ဟု မိန့်တော်
မူ၏။
၁၀ မောရှေကလည်း၊ အိုဘုရားရှင်၊ အကျွန်ုပ်
သည်နှုတ်သတ္တိမရှိပါ။အထက်ကလည်းမရှိပါ။
ကိုယ်တော်ကျွန်အား မိန့်တော်မူသော အခါ၌
ပင်မရှိပါ။ နှုတ်လေးသောသူ၊ စကား နှေးနှေး
ပြော တတ်သောသူဖြစ်ပါ၏ဟု၊ ထာဝရဘုရား
၁၁ အားလျှောက်ဆို၏။– ထာဝရဘုရားကလည်း၊
လူ၏နှုတ်ကို အဘယ်သူ ဖန်ဆင်း သနည်း။ စ
ကားအသောသူ၊ နားပင်းသောသူ၊ မျက်စိမြင်
သောသူ၊ မမြင် သော သူတို့ကို အဘယ်သူ ဖန်
ဆင်းသနည်း။ငါထာဝရဘုရားဖန်ဆင်းသည်မ
၁၂ ဟုတ်လော။– သို့ဖြစ်၍ယခုသွားလော့၊ သင်၏
နှုတ်၌ငါရှိ၍၊ သင်သည်အဘယ်သို့ပြောရမည်
၁၃ ကိုသွန်သင်မည်ဟု မိန့်တော်မူ၏။– မောရှေက
လည်း၊ အိုဘုရားရှင်၊ အလိုတော်ရှိသောသူ၏
လက် တွင် ပေး လိုက် တော် မူပါဟု လျှောက်
၁၄ သော်၊– ထာဝရဘုရားသည် မောရှေအား အ
မျက်တော်ထွက်၍၊ လေဝိအမျိုးအာရုန်သည်သင်
[illegible]

ချွန်းစွာ ပြောတတ် သည်ကို ငါသိ၏။ သူ သည်
လည်းသင့်ကို ခရီးဦးကြိုပြုခြင်းငှါ လာရလာ၏။
တွေ့မြင်သောအခါ၊ ဝမ်းမြောက် လိမ့်မည်။–
၁၅ သင် သည် သူနှင့် စကား ပြော၍၊ သူပြောစရာ
စကားကိုပေးရမည်။သင်၏နှုတ်၌၎င်း၊သူ၏နှုတ်
၌၎င်းငါရှိ၍၊ သင်တို့သည်အဘယ်သို့ပြုရမည်
၁၆ ကိုသွန်သင်မည်။– သူသည်လည်း၊လူတို့ရှေ့မှာ
သင်၏ စကားပြန်လုပ်၍၊ သင်၏နှုတ်ကိုယ်စား
ဖြစ်လိမ့်မည်။ သင်သည်လည်း သူ၏ဘုရားသ
၁၇ ခင်ကိုယ်စားဖြစ်လိမ့်မည်။– သင်သည်၊ နိမိတ်
လက္ခဏာတို့ကိုပြလတံ့သော ဤလှံတံကိုလည်း၊
သင်၏လက်၌ ကိုင်ရမည်ဟုမိန့်တော်မူ၏။
၁၈ မောရှေသည်လည်း၊ယောက္ခမယေသရောထံ
သို့ပြန်သွား၍၊အဲဂုတ္တုပြည်၌ရှိသောကျွန်ုပ်အ
မျိုးသားချင်းတို့သည်၊ အသက်ရှင်သေးသလော
ဟုကြည့်ရှုခြင်းငှါ၊ သူတို့ရှိရာသို့ကျွန်ုပ်သွားရ
သောအခွင့်ကိုပေးပါလော့ဟုဆိုသော်၊ယေသ
ရောက၊ ငြိမ်ဝပ်စွာ သွားလော့ဟု ပြန်ဆို လေ
၁၉ ၏။– ထာဝရဘုရားကလည်း၊အဲဂုတ္တုပြည်သို့
ပြန်သွားလော့၊ သင်၏အသက်ကို ရှာသောသူ
အပေါင်းတို့သည်သေကြပြီဟု၊မိဒျန်ပြည်၌မော
၂၀ ရှေအားမိန့်တော်မူ၏။– ထိုအခါ၊မောရှေသည်
မယားနှင့် သားနှစ်ယောက်တို့ကိုယူ၍မြည်းကိုစီး
စေသဖြင့်၊ ဘုရားသခင်၏လှံတံတော်ကိုလက်စွဲ
၂၁ လျက်၊ အဲဂုတ္တုပြည်သို့ပြန်လေ၏။– ထာဝရ
ဘုရားကလည်း၊ သင်သည် အဲဂုတ္တုပြည်သို့
သွား၍ ရောက်လျှင်၊ သင်၌ ငါအပ်သော တန်
ခိုးသောအမှုအလုံးစုံတို့ကို ဖာရောဘုရင်ရှေ့
မှာပြလော့။ထိုသို့ပြသော်လည်း၊သူ၏နှလုံးကို
ငါခိုင်မာစေ၍၊ သူသည် ဣသရေလလူတို့ကို မ
၂၂ လွှတ်ဘဲနေလိမ့်မည်။– ဖာရော ဘုရင်ကိုလည်း၊
ထာဝရဘုရားက ဣသရေလသည်ငါ့သားဖြစ်၏။
၂၃ သားဦး ဖြစ်၏။– ငါ့သားသည် ငါ့အားဝတ်ပြု
သောအခွင့်ရှိစေခြင်းငှါလွှတ်လော့။မလွှတ်ဘူး
ဟုငြင်းလျှင်၊ သင်၏သား၊ သင်၏သားဦးကိုပင်
ငါကွပ်မျက်မည်ဟု၊ မိန့်တော်မူကြောင်းကိုဆင့်
ဆိုလော့ဟု၊မောရှေအားမှာထားတော်မူ၏။
၂၄ ခရီးသွားစဉ်တွင်၊ စားခန်းဇရပ်၌ထာဝရ
ဘုရားသည်မောရှေကိုတွေ့၍ ကွပ်မျက်ခြင်းငှါ
၂၅ ရှာကြံတော်မူ၏။– ထိုအခါ၊ဇိပေါရသည်ထား
ကိုယူ၍၊ သား၏ အရေဖျားကို ဖြတ်ပြီးမှ၊
သင်၏ခြေရင်း၌ပစ်ချလျက်၊ အကယ်စင်စစ်

တို့သည်အုတ်ရိုးပေါ်မှာကျော်သွားကြ၏။- လေး
သမား တို့သည် သူကို အငြိုးထား၍၊ အလွန်
၂၄ ညှည်းဆဲပြစ်ခတ်ကြ၏။- သို့သော်သည်း၊သူ၏
လေးသည် အားမလျော့၊ သူကိုင်သော လက်
နက်တို့သည်၊ယာကုပ်အမျိုး၌တန်ခိုးကြီးသော
ဘုရား၏လက်ဖြင့်၎င်း၊ သိုးထိန်းတည်းဟူသော
၂၅ ဣသရေလအမျိုး၏ကျောက်ဖြင့်၎င်း၊- သင့်ကိုမ
စတော်မူသောသင့်အဖ၏ဘုရားသခင်အားဖြင့်
၎င်း၊ သင့်ကိုကောင်းကြီးပေးတော်မူသောအနန္တ
တန်ခိုးရှင်အားဖြင့်၎င်းခိုင်မာလျက်ရှိ၏။ ထိုဘု
ရားသည်အထက်မိုဃ်းကောင်းကင်၏မင်္ဂလာ၊
အောက်နက်နဲသော အရပ်၏မင်္ဂလာ၊ သမြတ်
နှင့်ဆိုင်သော မင်္ဂလာ၊ ဝမ်းနှင့် ဆိုင်သောမင်္ဂ
လာတို့ဖြင့်၊ သင့်ကိုကောင်းကြီးပေးတော်မူပါ
၂၆ စေသော။- သင်၏ အဖပေးသော ကောင်းကြီး
မင်္ဂလာသည်၊ ထာဝရ တောင်တို့၌ ဖြစ်သော
ကောင်းကြီး မင်္ဂလာ၊ ထာဝရ ကုန်းတို့၌ နှစ်
သက်ဖွယ်သော အရာတို့ထက်သာ၍ မြတ်၏။
ထိုမင်္ဂလာသည်ယောသပ်ခေါင်းပေါ်၊ မိမိအစ်
ကိုတို့တွင် အကြီးအကဲ ဖြစ်သော သူ၏ခေါင်း
ထိပ်ပေါ်မှာသက်ရောက်ပါစေသော။
၂၇ ဗင်္ယာမိန်သည် လုယူကိုက်စား တတ်သော
တောခွေးဖြစ်လိမ့်မည်၊ ဖမ်းရသောအရာကိုနံ
နက်အချိန်၌ ကိုက်စား၍၊ လုယူသောအရာကို
ညနေအချိန်၌ဝေဖန်လိမ့်မည်ဟုမြွက်ဆို၏။
၂၈ ဤသူတို့ကား၊ ဣသရေလအမျိုးဆယ်နှစ်မျိုး
ဖြစ်၏။ ဤစကားသည်လည်းသူတို့အဖမြွက်ဆို
၍၊ သူတို့အသီးအသီးခံရသောမင်္ဂလာရှိသည်
အတိုင်း၊ကောင်းကြီးပေးသောစကားပေတည်း။
၂၉ တဖန်တုံ၊ ငါလူမျိုးစည်းဝေးရာသို့ ငါသွားရ
မည်။ဟိတ္တိအမျိုးသား၊ဧဖရုန်၏လယ်ပြင်တွင်
ရှိသောမြေတွင်း၌၊ငါ့အဖတို့နှင့်အတူငါ့ကိုသင်း
၃၀ ဂြိုဟ်ကြပါ။- ခါနာန်ပြည်မံရေမြို့ရှေ့မှာ၊ မင္ပေ
လထလယ်ပြင်၌ရှိသောထိုမြေတွင်းကို၊ အာဗြဟံ
သည် ကိုယ်ပိုင်သောသင်းချိုင်းဘို့၊ လယ်ပြင်
နှင့်တကွ ဟိတ္တိအမျိုးသားဧဖရုန်၌ ဝယ်လေ
၃၁ ပြီ။-ထိုမြေတွင်း၌အာဗြဟံနှင့်မယားစာရာကို
သင်းဂြိုဟ်ကြပြီ၊ ဣဇာက်နှင့် မယားရေဗက္က
ကိုလည်း သင်းဂြိုဟ်ကြပြီ၊ လေအာကိုလည်း
၃၂ ငါသင်းဂြိုဟ်ပြီ။- ထိုမြေတွင်းရှိသောထိုလယ်
ပြင်ကို၊ ဟေသအမျိုးသားရှေ့မှာဝယ်သတည်း။
၃၃ ထုမှာထား၏။-ထိုသို့ယာကုပ်သည်မိမိသားတို့
ကိုအကုန်အစင်မှာထားပြီးလျှင်၊ မိမိခြေတို့ကို
ခုတင်ပေါ်မှာရုပ်သိမ်းသဖြင့်၊ အသက်ချုပ်၍
မိမိလူမျိုးစည်းဝေးရာသို့ရောက်လေ၏။

၅၀

ထိုအခါယောသပ်သည် အဖ၏မျက်နှာပေါ်
၂ မှာငုံ၍၊ ငိုလျက် နမ်းလျက် နေ၏။- အဖ၏အ
လောင်းကိုနံ့သာမျိုးနှင့်ပျင်ဆင်စေခြင်းငှါ၊ မိမိ
ကျွန်ဆေးသမားတို့ကိုအမိန့်ရှိ၍၊ သူတို့သည်နံ့
၃ သာမျိုးနှင့် ပျင်ဆင် ကြ၏။- နံ့သာမျိုးနှင့် ပျင်
ဆင်သောအလောင်းကို၊ ထုံးစံရှိသည်အတိုင်း
ထား၍၊အရက်လေးဆယ်လွန်လျှင်၊အဲဂုတ္တုလူ
တို့သည် ယာကုပ်ကြောင့်၊ အရက်ခုနစ်ဆယ်
၄ ပတ်လုံးငိုကြွေးမြည်တမ်းခြင်းကိုပြုကြ၏။- ငို
ကြွေးမြည်တမ်းသော နေ့ရက်လွန်သော အခါ၊
ယောသပ်သည်နန်းတော်သားအစုတို့ကိုခေါ်
၍၊ သင်တို့ သည် ကျွန်ုပ် ကို စေတနာ စိတ်ရှိ
၅ လျှင်၊ ဖာရောဘုရင်ထံတော်သို့သွား၍၊-ကျွန်
တော်အဖက၊ ငါသေတော့မည်၊ ခါနာန်ပြည်၌
ကိုယ်ဘို့ ငါတူးသောသင်းချိုင်းတွင်း၌၊ငါ
ကိုသင်းဂြိုဟ် ရမည်ဟူ၍၊ ကျွန်တော်ကို ကျိန်
ဆိုစေပါပြီ။ ထိုကြောင့်ကျွန်တော်သွား၍၊အဖ
ကိုသင်းဂြိုဟ်ပြီးမှ၊ ပြန်လာပါမည်အကြောင်း
ကို၊ အသနားတော် ခံပါ သည်ဟု၊ နားတော်
၆ လျှောက်ကြပါလော့ဟုဆို၏။- ဖာရောမင်းက
လည်း၊ သင်၏အဖ ကျိန်ဆိုစေသည် အတိုင်း
သွား၍၊သင်းဂြိုဟ်လော့ဟုမိန့်တော်မူ၏။
၇ ယောသပ် သည် အဖကို သင်းဂြိုဟ်ခြင်းငှါ
ထွက်သွား၍၊ ဖာရောမင်း၏ကျွန်များတည်းဟူ
သော၊ နန်းတော်အရာရှိ၊ အဲဂုတ္တုပြည်အရာရှိ
၈ အပေါင်းတို့နှင့်၊- ယောသပ်အိမ်သား၊အစ်ကို
တို့အိမ်သား၊ အဖအိမ်သား ရှိသမျှ တို့သည်
လိုက်ကြ၏။ သူငယ်တို့နှင့်သိုးနွားများကိုသာ၊
၉ ဂေါရှင်ပြည်၌ကျန်ရစ်စေကြ၏။- ထိုသို့လျှင်ရ
ထားများ၊ မြင်းစီးသူရဲများ တည်းဟူသော၊
အလွန်များစွာသော အလုံးအရင်း တို့သည်၊
၁၀ ယောသပ်နှင့်တကွလိုက်သွားကြ၏။-ယော်ဒန်
မြစ်နားမှာ အာတဒ် ကောက်နယ် တလင်းသို့
ရောက်သောအခါ၊ အလွန်ကြီးစွာသောငိုကြွေး
မြည်တမ်းခြင်းကိုပြုကြပြန်၏။ယောသပ်သည်
မိမိအဖကြောင့်၊ခုနစ်ရက်ပတ်လုံးငိုကြွေးမြည်
၁၁ တမ်းခြင်းကိုပြုလေ၏။-ထိုသို့အာတဒ်ကောက်
နယ်တလင်း၌ပြုသော၊ ငိုကြွေးမြည်တမ်းခြင်း

ထို့၊ထိုမြို့ဦးသား၊ခါနာန်လူတို့သည်မြင်လျှင်၊အဲ
ဂုတ္တုလူတို့သည်ပြင်းစွာ ငိုကြွေးမြည်တမ်းပေါ
သည်တကားဟု ဆိုကြ၏၊ ထိုကြောင့် ယော်ဒန်
မြစ်နားမှာရှိသောထိုအရပ်ကို၊အာဗေလမိဇရိမ်
၁၂ ဟူ၍ သမုတ်ကြသတည်း။– ယာကုပ်သားတို့
၁၃ သည်၊အဖမှာထားသည်အတိုင်းပြုကြ၏။– ခါ
နာန်ပြည်သို့ဆောင်သွား၍၊ အာဗြဟံသည်ကိုယ်
ပိုင်သောသင်းချိုင်းထိုး၊ ဟိတ္တိအမျိုးသား ဧဖ
ရုန်၌ ဝယ်သော ခံရေမြို့ချ၊ မမ္ရေထထယ်မြင်
၁၄ ထွင်မှိသောမြေတွင်းဝှ၌သင်္ဂြိုဟ်ကြ၏။–ယော
သပ်သည် အဖကိုသင်းဂြိုဟ်ပြီးလျှင်၊ အစ်ကို
များမှစ၍၊မသာလိုက်လာသောသူအပေါင်းတို့
နှင့်တကွ၊အဲဂုတ္တုပြည်သို့ပြန်လေ၏။
၁၅ ယောသပ်အစ်ကိုတို့သည် အဖသေသည်ကို
သိမြင်လျှင်၊ငါတို့ကိုယောသပ်သည်အငြိုးထား
ကောင်းထားလိမ့်မည်၊ငါတို့သည်အထက်က၊
သူကိုပြုသည်းဆဲသောကြောင့်၊ ငါတို့အားကေန်
အမှန်ပြန်၍ပြုဦးမည်လိမ့်မည်ဟု မိုးရိပ်လျှတ်၊–
၁၆ လူထံသို့တမန်ကိုစေလွှတ်၍၊ကိုယ်တော်အစ်ကို
၁၇ တို့သည် မကောင်း သော အမှုကို ကိုယ်တော်
အားပြုမိ၍၊ ကိုယ်တော်ကိုပြစ်မှားသောအပြစ်
ကို ဖွင့်လွှတ်တော်မူပါဟု၊ ကိုယ်တော်အားကြား
လျှောက်ရမည်အကြောင်း၊ခမည်းတော်မသေ
မှီ ကျွန်တော်တို့ကို မှာထားခဲ့သည်ဖြစ်၍၊ ထိုမှ
တွင် ခမည်းတော်၏ ဘုရားသခင် ကျွန်တို့၏အ
ပြစ်ကိုလွှတ်တော်မူပါဟုလျှောက်ကြ၏၊ ထိုသို့
လျှောက်ကြသောအခါ၊ ယောသပ်သည် ငှတ်
၁၈ ရှည်ကျလေ၏။– အစ်ကိုတို့သည်လည်း ဝင်၍
ယောသပ်ရှေ့မှာပြပ်ဝပ်လျှက်၊ ကျွန်တော်တို့
သည် ကိုယ်တော်၏ ကျွန် ဖြစ်ကြပါသည် ဟု
၁၉ လျှောက်ကြ၏။– ယောသပ်ကလည်း၊ စိုးရိမ်
ကြနှင့်၊ကျွန်ုပ်သည်ဘုရားသခင်ကိုယ်စားဖြစ်သ
၂၀ လော။–သင်တို့သည်ကျွန်ုပ်ကိုပြုသည်းဆဲမည်ကြံ
ကြ သော်သည်း၊ ဘုရားသခင်သည် ယနေ့ဖြစ်
သည့်အတိုင်း၊လူများအသက်ရှင်သောခြင်း
၂၁ ငှါ ကျေးဇူး ပြုမည်ကြံတော်မူ၏။– ထိုကြောင့်
စိုးရိမ် ကြနှင့်၊ သင် တို့နှင့် သူ ငယ် များ ကို
ကျွန်ုပ် ကျွေးမွေးမည်ဟုဆိုလျှက်၊ သူတို့ကိုနှစ်
သိမ့်စေ၍မေတ္တာစကားကိုပြောလေ၏။
၂၂ ထိုသို့ယောသပ်သည်၊ မိမိအဖ၏အမျိုးသား
တို့နှင့်၊ အဲဂုတ္တုပြည်၌နေ၍၊ အသက်တရာတ
၂၃ ဆယ်ကိုမှီ၏။– ဧဖရိမ်၏မြေးကိုမြင်ရ၏၊ မနာ
ရှေ၏သား၊ မာခိရ၏သားတို့ကိုလည်းမိမိဒူး
ပေါ်မှာမွေးစားရ၏။
၂၄ ယောသပ်ကလည်း။ ကျွန်ုပ် သေတော့မည်။
အကယ်စင်စစ် ဘုရားသခင်သည် သင်တို့ကိုအ
ကြည့်အရှုကြွလာတော်မူမည်၊ အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ်တို့အား ကျိန်ဆိုတော်မူသော
ပြည်သို့၊ ဤပြည်မှဆောင်သွားတော်မူမည်ဟု
၂၅ အစ်ကို တို့အား ဆို၏။– တဖန်တုံ၊ အကယ်စင်
စစ် ဘုရားသခင်သည် သင်တို့ကိုအကြည့်အရှု
ကြွလာ တော်မူမည်၊ ကျွန်ုပ် အရိုးတို့ကို ဤအ
ရပ်မှ ယူသွား ရမည်ဟူ၍၊ ဣသရေလ အမျိုး
၂၆ သား တို့ကို ကျိန်ဆို စေ၏။– ထိုသို့ သော ယော
သည် အသက် တရာ တဆယ် ရှိသော် အနိစ္စ
ရောက်လေ၏၊ အလောင်းကိုကားနံ့သာမျိုးနှင့်
ပျံ့အင်ပြီးလျှင်၊ အဲဂုတ္တု ပြည်၌ ထားထားနှင့်
ထားကြလေ၏·

မှင်မော့ရှေ့မိရင်ရေးထားသောကမ္ဘာဦးကျမ်းပြီး၏၊

---

# ထွက်မြောက်ရာကျမ်း၊

## EXODUS

---

၁ မိမိတို့ အိမ်သူ အိမ်သားပါလျှက်၊ အဖယာ
ကုပ်နှင့်အတူ အဲဂုတ္တုပြည်သို့ရောက်လာသော
၂ ဣသရေလသားတို့၏အမည်ဟူမူကား၊–ရုဗင်၊
၃ ရှိမောင်၊ လေဝိ၊ ယုဒ– ဣ သခါ၊ ဇာဗုလုန်၊
၄ ဗင်္ယာမိန်– ဒန်၊ နဿလိ၊ ဂဒ်၊အာရှာတည်း။–
၅ ယာကုပ် အမျိုးသား ပေါင်း ကား၊ ခုနစ်ဆယ်
သည်။ ယောသပ်သည် အဲဂုတ္တုပြည်၌ ရှိနှင့်
ထတည်း။
၆ ယောသပ်နှင့်အစ်ကိုများမှစ၍၊ ထိုကာလ
၇ မျိုးသားအပေါင်းတို့သည်သေကြကုန်၏– ဣ
သရေလအမျိုးသားတို့သည်သားကိုဖွားမြင်၍ အ

ဖွှဲ့နှိပ်ထိုး ပွားများပြားသဖြင့်၊ အလွန်အားကြီး၍ တပြည်လုံး၌ နှံ့ပြားကြလေ၏။
၈ ထိုနောက်မှအဲဂုတ္တုပြည်၌ယောသပ်ကိုမသိ
၉ သောရှင်ဘုရင်သစ်ပေါ်ထ၏၊-ထိုရှင်ဘုရင်က ထည်း၊ ဣသရေလ အမျိုးသားတို့သည်၊ ငါတို့ ထက်သာ၍ များကြ၏၊ သာ၍ အားကြီးကြ၏၊-
၁၀ ထာကြ၊ သူတို့ကိုလိမ္မာစွာပြုကြစို့၊ သို့မဟုတ်၊ သူတို့သည်များပြားကြလိမ့်မည်၊ နောက်တခါ စစ်မှုရောက်လျှင်၊ ငါတို့ရန်သူဘက်သို့ဝင်စား၍၊ ငါတို့ကိုတိုက်သဖြင့်၊ ပြည်တော်ထဲကထွက် သွားကြလိမ့်မည်ဟု၊ မိမိလူတို့အားဆိုထေ၏၊-
၁၁ ထိုကြောင့် အဲဂုတ္တုမင်းတို့သည်၊ ကြပ်တည်း စွာနှိပ်စက်ညှဉ်းဆဲစေခြင်းငှါ၊ အတုပ်အချုပ် ခန့်ထားကြ၏။ ဣသရေလလူတို့သည်၊ ဘဏ္ဍာ တော်သို ထားဆို၊ ပိသုံမြို့နှင့် ရာမသက် မြို့ကို
၁၂ တည်ဆောက်ရကြ၏၊-သို့သော်ထဉ်း၊ နှိပ်စက် ခြင်းကို ခံရသည်အတိုင်း၊ တိုး ပွား များပြား လျှက်ရှိကြ၏၊သူတို့ကြောင့်အဲဂုတ္တုလူတို့သည်
၁၃ မိတ်ညဲစ်၍၊- အလွန်ကြမ်းတမ်းစွာညှဉ်းဆဲ
၁၄ ကြ၏၊- သရွတ်နှင့်ဖုတ်လုပ်သောအမှု၊လယ် လုပ်သောအမှုအမျိုးမျိုး၌ ခဲယဉ်းစွာစေခိုင်း၍၊ အလွန်ဆင်းရဲပင်ပန်းစေကြ၏။ စေခိုင်းထေရာ ရာ၌ထည်း၊ခဲယည်းစွာစေခိုင်းကြ၏၊
၁၅ ရှိဖရနှင့်ပုအာအမည်ရှိသော ဟေဗြဲဝမ်းဆွဲ
၁၆ မတို့ကို၊ အဲဂုတ္တု ရှင်ဘုရင်က၊- သင်တို့သည် ဟေဗြဲမိမ္မတို့အားဝမ်းဆွဲလုပ်၍၊ မွေးရာအရပ် ၌စောင့်နေသောအခါ၊ယောကျ်ားဖြစ်လျှင်သေ စေ၊ မိန်းမဖြစ်လျှင်အသက်ရှင်စေဟု အမိန့်တော်
၁၇ ရှိ၏၊-ဝမ်းဆွဲမတို့သည်ဘုရားသခင်ကိုကြောက် ရွံ့၍၊အဲဂုတ္တုရှင်ဘုရင်မိန့်တော်မူသည်အတိုင်း မပြု၊ ယောကျ်ားတို့ကိုအသက်ချမ်းသာပေးကြ
၁၈ ၏၊-အဲဂုတ္တုရှင်ဘုရင်သည်ထည်း၊ဝမ်းဆွဲမတို့ ကိုခေါ်၍၊သင်တို့သည်အဘယ်ကြောင့်ဤသို့ပြု သနည်း၊ ယောကျ်ားတို့ကို အဘယ်ကြောင့် အ သက် ချမ်းသာ ပေးသနည်းဟု မေးစစ်သော်၊-
၁၉ ဝမ်းဆွဲမတို့က၊ ဟေဗြဲမိမ္မတို့သည်၊အဲဂုတ္တုမိန္မ ကဲ့သို့မဟုတ်၊ သန်စွမ်းသောကြောင့်၊ ဝမ်းဆွဲ မ မရောက်မှီ သားကို ဖွားတတ် ကြ၏ ဟု ပြန်
၂၀ လျှောက်ထေ၏၊- ထိုကြောင့်ဘုရားသခင်သည် ဝမ်းဆွဲမတို့ကို ကျေးဇူးပြုတော်မူ၏။ ထိုလူအ မျိုး သည်ထည်း၊များပြား၍၊ အလွန်အားကြီး
၂၁ ကြထေ၏၊- ဝမ်းဆွဲမတို့သည် ဘုရား သခင်ကို ကြောက် ရွံ့ သောကြောင့်၊ သူတို့ အိမ်သူအိမ်
၂၂ သားများကို ပြုစုတော်မူ၏၊- ဖာရော ဘုရင်က ထည်း၊ ဣသရေလအမျိုးသားတို့တွင်၊ဖွားမြင် သော သူငယ်ယောကျ်ားအပေါင်းတို့ကိုမြစ်ထဲ သို့ချပြစ်ကြ၊ မိန္မကိုမူကား၊ အသက် ရှင်စေဟု မိမိလူအပေါင်းတို့ကိုမှာထားတော်မူ၏။

၂

၁ ထိုကာလ၌ထေဝိအမျိုးသားတယောက်သည်၊
၂ ထေဝိအမျိုးသမီးနှင့် အိမ်ထောင်ဖက်ပြု၍၊- မိန္မ သည် ပဋိ သန္ဓေ ယူ သဖြင့်၊ သား ယောကျ်ား ကို ဖွားမြင် ထေ၏။ ထို သားသည် အဆင်း လှ ကြောင်းကိုအမိမြင်လျှင်၊ သုံးလပတ်လုံးဖွက်
၃ ထားလေ၏၊- နောက်တဖန် ဖွက်၍ မထားနိုင် သောအခါ၊ ဂမာကိုင်းပင်ဖြင့်ရက်သောဝုခတ် ကိုယူ၍၊ ရေညှိနှင့်သစ်စေးဖြင့်လူးပြီးလျှင်၊ ဝု ခက်ထဲတွင် သူငယ်ကို ထည့်၍၊ မြစ်ကမ်းနား
၄ ကိုင်းတော၌ထားလေ၏၊- သူငယ်အစ်မ ထည်း အဘယ်သို့ဖြစ်မည်ကိုသိမြင်ခြင်းငှါ၊အဝေး၌
၅ ရပ်နေလေ၏၊- ဖာရောဘုရင်၏သမီးတော်သည်၊ ရေချိုးခြင်းငှါ ဆင်းလာ၍၊ ကျွန်မ တို့နှင့် မြစ် ကမ်းနား၌လှည့်လည်စဉ်၊ကိုင်းတော၌ဝုခတ်ကို မြင်၍၊ ဆောင်ယူစေခြင်းငှါကျွန်မ တယောက်
၆ ကိုစေလွှတ်ထေ၏၊-ပုခက်ဖုံးကိုဖွင့်သောအခါ၊ ငိုလျှက်နေသော သူငယ်ကိုမြင်၍၊ သနားသော စိတ်ရှိလျှင်၊ ဤသူငယ်သည် ဟေဗြဲအမျိုးဖြစ်
၇ လိမ့်မည်ဟု ဆိုပြီးသော်၊- သူငယ်၏အစ်မက၊ ကိုယ်တော် အတွက်၊ သူငယ်ကို ထိန်း ရအောင် ဟေဗြဲအထိန်းကို၊ ကျွန်မသွား၍ခေါ်ရပါမည် လောဟု၊ ဖာရော ဘုရင်၏ သမီး တော်အား မေး
၈ လျှောက်၍၊- မင်းသမီးက သွားလော့ဟု အခွင့် ပေးလျှင်၊ မိန္မငယ်သွား၍ သူငယ်၏အမိကိုခေါ် ထေ၏။
၉ ဖာရောဘုရင်၏သမီးတော်က၊ဤသူငယ်ကို ယူ သွား၍ ငါ့ကိုထိန်းလော့၊ အခကိုငါပေးမည်ဟု မှာထားသည်အတိုင်း၊ ထိုမိန္မသည် သူငယ်ကို
၁၀ ယူသွား၍ထိန်းထေ၏၊- သူငယ်ကြီး ပွားသော အခါ၊ ဖာရောဘုရင်၏သမီးတော်ထံသို့ ပို့ဆောင် ၍၊ မင်းသမီးသည်သား၊အရာ၌ ခန့်ထားလျှက်၊ မောရှေအမည်ဖြင့်မှည့်၏။ အကြောင်းမူကား ရေထဲကငါနှုတ်ယူသည်ဟုဆိုသတည်း။
၁၁ မောရှေသည်ကြီးသောအခါ၊မိမိအမျိုးသား ချင်းထံသို့ ရာသို့သွား၍၊ သူတို့ အမှုထမ်းရသော

အခြင်းအရာထိုကိုကြည့်ရှုတော်မူ၏။ မိမိအမျိုးသား
ဟေဗြဲလူတယောက်ကို၊ အဲဂုတ္တုလူရိုက်သည်
၁၂ ကိုမြင်လျှင်၊-ဝတ်ထည်ကြည့်ရှု၍၊ အထယ်သူ
မှ မရှိသည်ကို သိသောအခါ၊ အဲဂုတ္တု လူကို
၁၃ သတ်၍၊ သဲထဲ၌မြှုပ်ထားလေ၏။- နက်ဝန်နေ့၌
ထွက်ပြန်သော်၊ ဟေဗြဲလူနှစ်ယောက်တို့သည်
အချင်းချင်းသတ်ကြသည်ကိုမြင်လျှင်၊ ထင်သဝို
သင်၏ အပေါင်း အဖော်ကို၊ အဘယ်ကြောင့်
ရိုက် သနည်းဟု၊ ဒုစရိုက်ပြုသော သူအား မေး
၁၄ သည်ရှိသော်၊- ထိုသူက၊ အဘယ်သူသည်သင့်
ကိုငါတို့အပေါ်မှာ၊ အကဲအစိုး တရားသူကြီး
အရာ၌ခန့်ထားသနည်း။ အဲဂုတ္တုလူကိုသတ်သ
ကဲ့သို့၊ ငါ့ကို သတ်လိုသလောဟုပြန်ဆို၏။ ထိုအ
ခါ မောရှေသည်မိမိပြုသောအမှု ထင်ရှားပြီဟု
၁၅ ထိ၍ကြောက်လေ၏။- ထိုအကြောင်းကိုဖာရောဘု
ရင် ကြားသောအခါ၊ မောရှေကို သတ်ခြင်းငှါ
ရှာကြံလေ၏။ မောရှေသည် ဖာရောဘုရင်ထံမှ
ထွက်ပြေး၍၊ မိဒျန်ပြည်သို့ရောက်လျှင် ရေတွင်း
နားမှာထိုင်၍ နားနေလေ၏။
၁၆ ထိုအခါ၊ မိဒျန်ယဇ်ပုရောဟိတ်၏သမီးညီအစ်
မခုနစ်ယောက်တို့သည်၊ မိမိတို့အဘ၏သိုးဆိတ်
များကို ရေတိုက်ခြင်းငှါလာ၍ ရေခပ်ပြီးလျှင်၊
၁၇ ရေသောက်ခွက်တို့၌လောင်းကြ၏။- သိုးထိန်း
အချို့တို့ထဝိုးလာ၍သိုးဆိတ်ရှားကိုမောင်းကြ
၏။ ထိုအခါမောရှေသည်ထ၍၊ ထိုမိန်းမတို့ထက်၌
၁၈ နေလျက်၊ သိုးဆိတ်များကိုရေတိုက်လေ၏။- ထို
မိန်းမတို့သည် အဘရွေလထံသို့ ရောက်ကြသော်၊
အဘက၊ အဘယ်ကြောင့် ယနေ့ အလျှင်အမြန်
၁၉ ရောက်လာ ရကြသနည်းဟုမေးလေ၏။- သူတို့
ကလည်း၊ အဲဂုတ္တု လူတယောက်သည်၊ အ
ထွန်းပ်တို့ကို သိုးထိန်းတို့လက်မှ ကယ်နှုတ်၍၊
ရေလိုသမျှကို ခပ်သဖြင့်၊ သိုးဆိတ်များကိုရေ
၂၀ တိုက်ပါသည်ဟု ပြန်ပြော၏။- အဘကလည်း၊
ထို သူ သည် အဘယ် မှာ ရှိ သနည်း။ အဘယ်
ကြောင့်သူကိုပြစ်ထားခဲ့သနည်း။ အစာစားစေ
၂၁ ခြင်းငှါသူကိုခေါ်ချကြဟုဆိုလေ၏။- မောရှေ
သည် ထိုသူ ထံမှာနေ၍ ပျော်မွေ့သဖြင့်၊ ထိုသူမိ
ပေါရကိုမောရှေအားထိန်းမြားပေးစားလေ၏။-
၂၂ ထိုမိန်းမွားသောသားကို ဂေရရှုံအမည်ဖြင့်မှည့်
၏။ အကြောင်းမူကား၊ ငါသည်တကျွန်းတနိုင်ငံ
၌ ဧည့်သည်အာဂန္တုဖြစ်ရပြီဟုဆိုသတည်း။
၂၃ ကာလအင်တန်ကြာပြီးမှ၊ အဲဂုတ္တုရှင်ဘုရင်
အနိစ္စရောက်လေ၏။ ဣသရေလအမျိုးသားတို့
သည်၊ အစေကျွန်ခံရသောကြောင့်၊ ညည်းတွား
ငိုကြွေးကြ၏။ ထိုသို့အစေကျွန်ခံ၍ငိုကြွေးသော
အသံသည်၊ ဘုရားသခင်ထံတော်သို့တက်ရောက်
၂၄ လေ၏။-သူတို့ညည်းတွားမြည်တမ်းခြင်းအသံ
ကိုဘုရားသခင်ကြားတော်မူလျှင်၊ အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ်နှင့်ဖွဲ့ခဲ့သောပဋိညာဉ်ကို
၂၅ အောင်းမေ့တော်မူ၏။-ဘုရားသခင်သည်ထိုဣ
သရေလ အမျိုးသားတို့ကို ကြည့်ရှု၍၊ သူတို့
အမှုကိုဆင်ခြင်တော်မူ၏။

၃

၁ မောရှေသည်၊ မိမိယောက္ခမမိဒျန်ယဇ်ပုရော
ဟိတ်ယေသရော၏သိုးဆိတ်များကိုထိန်းစဉ်၊
တောနောက်ထက်သို့ဆောင်သွား၍၊ ဟောရပ်
အမည်ရှိသောဘုရားသခင်၏တောင်သို့ရောက်
၂ လေ၏။- ထိုအခါ၊ ဘုရားသခင်၏ကောင်းကင်တ
မန်သည် မြူထဲက ထွက်သောမီးလျှံ၌ထင်ရှား၏။
မောရှေသည်ကြည့်သောအခါ၊ မီးလောင်၍မြူ
၃ မကျွမ်းဘဲရှိသည်ကိုမြင်လျှင်၊-အဘယ်ကြောင့်
မြူမကျွမ်းဘဲရှိသနည်း။ ဤထူးဆန်းသောရူပါရုံ
၄ ကို ငါသွား၍ ကြည့်ရှုမည်ဟုဆို၏။- မောရှေ
သွား၍ကြည့်ရှုကြောင်းကို ထာဝရဘုရားမြင်
တော်မူလျှင်၊ မောရှေ၊ မောရှေဟု မြူထဲကခေါ်
တော်မူ၏။ မောရှေကလည်း၊ အကျွန်ုပ်ရှိပါ၏ဟု
၅ လျှောက်လေ၏။-ဘုရားသခင်ကလည်း၊ မချဉ်း
နှင့်။ သင်၏ခြေနင်းကိုချွတ်လော့။ သင်နင်းသော
အရပ်ကား၊ သန့်ရှင်းသော မြေဖြစ်သည် ဟု၍
၆ ၎င်း၊- ငါသည် သင့်အဘ၏ ဘုရား၊ အာဗြဟံ၏
ဘုရား၊ ဣဇာက်၏ဘုရား၊ ယာကုပ်၏ဘုရားဖြစ်
သည် ဟု၍ ၎င်း၊ မိန့်တော်မူ၏။ မောရှေ သည်
ဘုရားသခင်ကို မကြည့်ဝံ့၊ မိမိမျက်နှာကို ဖုံး
လျက်နေ၏။
၇ ထာဝရ ဘုရားကလည်း၊ အဲဂုတ္တုပြည်၌ရှိ
သော ငါ၏လူတို့ခံရသော ညှဉ်းဆဲခြင်းကို ငါ
စေ့စေ့မြင်ခဲ့ပြီ။ သူတို့ကိုစေခိုင်းသော သခင်တို့
ကြောင့်၊ သူတို့မြည်တမ်းသောအသံကိုလည်း
ငါကြားခဲ့ပြီ။ သူတို့နာကြည်းခြင်းဝေဒနာကိုငါ
၈ သိ၏။- သူတို့ကို အဲဂုတ္တုပြည်၊ အဲဂုတ္တု လူတို့
လက်မှကယ်နှုတ်၍၊ ခါနနိလူ၊ ဟိတ္တိလူ၊ အာ
မောရိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူတို့နေ
ရာ၊ နို့နှင့်ပျားရည်စီးတတ်သောပြည်သို့ ပို့ဆောင်
၉ ခြင်းငှါငါဆင်းလာပြီ။- ယခုတွင်လည်း၊ ဣသရေ

လအမျိုးသား တို့ငိုကြွေးသောအသံသည် ငါ့ထံ
သို့တိုင်ရောက်၍၊ သူတို့ကိုအဲဂုတ္တုလူတို့သည်
၁၀ ညှဉ်းဆဲ ခြင်းအမှုကိုလည်း၊ ငါမြင်ရပြီ။- ထို
ကြောင့်လာလော့၊ သွားလော့။ သင်သည်ငါ၏လူဣသ
ရေလ အမျိုးသားတို့ကို၊ အဲဂုတ္တုပြည်မှ နှုတ်
ဆောင်မည်အကြောင်း။ သင့်ကို ဖာရောဘုရင်
ထံသို့ငါစေလွှတ်မည်ဟုမိန့်တော်မူ၏။
၁၁ မောရှေကလည်း၊ အကျွန်ုပ်သည်အဘယ်သို့
သောသူဖြစ်၍၊ ဖာရောဘုရင်ထံသို့ ဝင်သဖြင့်၊
ဣသရေလ အမျိုးသားတို့ကို အဲဂုတ္တု ပြည်မှ
နှုတ်ဆောင်ရပါမည်နည်းဟု၊ ဘုရားသခင်အား
၁၂ လျှောက်လျှင်၊-ဘုရားသခင်က၊ အကယ်စင်စစ်
ငါသည် သင့်ထံ၌ရှိလိမ့်မည်။ ငါသည်သင့်
ကို စေ လွှတ် ခြင်းလက္ခဏာ သက် သေ ဟူ မူ
ကား၊ သင်သည်ထိုလူတို့ကိုအဲဂုတ္တုပြည်မှနှုတ်
ဆောင်ပြီးလျှင်၊ ဤတောင်ပေါ်မှာဘုရားသခင်
အား ဝတ်ပြုရကြလိမ့်မည်ဟု မိန့်တော်မူ၏။-
၁၃ မောရှေကလည်း၊ အကျွန်ုပ်သည်ဣသရေလအ
မျိုးသားတို့ ရှိရာသို့ရောက်၍၊ သင်တို့ဘိုးဘေး
များ၏ ဘုရားသခင်သည်၊ ငါ့ကိုသင်တို့ရှိရာသို့
စေလွှတ်တော် မူပြီဟု အကျွန်ုပ်ဆိုလျှင်၊ သူတို့
က၊ ထိုဘုရားသခင်၏နာမတော်ကားအဘယ်သို့
နည်းဟု၊ အကျွန်ုပ်ကိုပြန်၍မေးသောအခါ၊ အ
ဘယ်သို့ ပြန်ပြောရပါမည်နည်းဟု၊ ဘုရားသ
၁၄ ခင်အားမေးလျှောက်လေ၏။- ဘုရားသခင်က
လည်း၊ ငါဖြစ်သည်အတိုင်း ငါဖြစ်၏ဟု၍၎င်း၊
ငါ ဖြစ်သည်ဟု အမည်ရှိသော သူသည်၊ ငါ့ကို
သင်တို့ရှိရာသို့ စေလွှတ်တော်မူပြီဟု၊ ဣသရေ
လအမျိုးသားတို့အား ပြန်ပြောလော့ဟု၍၎င်း၊
မောရှေအားမိန့်တော်မူ၏။
၁၅ တဖန်ဘုရားသခင်က၊ သင်တို့ဘိုးဘေးများ၏
ဘုရားသခင်၊ အာဗြဟံ၏ဘုရား၊ ဣဇာက်၏ဘု
ရား၊ ယာကုပ်၏ဘုရားတည်းဟူသော၊ ထာဝရ
ဘုရားသည်၊ ငါ့ကိုသင်တို့ရှိရာသို့စေလွှတ်တော်
မူပြီဟု၊ ဣသရေလ အမျိုးသားတို့အား ပြောရ
မည်။ ထိုအမည်သည် အစဉ်အမြဲ အမည်ဖြစ်၏။
လူမျိုး အစဉ်အဆက်မပြတ် ဘွဲ့နာမဖြစ်၏။-
၁၆ သွား၍ ဣသရေလ အမျိုး၊ အသက်ကြီးသူတို့ကို
စုဝေးစေပြီးလျှင်၊ သင်တို့ဘိုးဘေးများ၏ဘုရား
သခင်၊ အာဗြဟံ၏ ဘုရား၊ ဣဇာက်၏ ဘုရား၊
ယာကုပ်၏ဘုရားတည်းဟူသော၊ ထာဝရဘုရား
သည် ငါ့အား ထင်ရှားတော်မူလျက်၊ အကယ်စင်
စစ်သင်တို့ကိုငါအကြည့်အရှုထား၍၊ အဲဂုတ္တု
ပြည်၌ သင်တို့အားပြုသောအမှုကို ငါမြင်ပြီ။-
၁၇ အဲဂုတ္တုပြည်၌ ခံရသော ဒုက္ခထဲကသင်တို့ကို
ငါနှုတ်၍၊ ခါနနိလူ၊ ဟိတ္တိလူ၊ အာမောရိလူ၊ ဖေ
ရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူတို့နေရာ၊ နို့နှင့်ပျား
ရည်စီးတတ်သောပြည်သို့ ပို့ဆောင်မည်ငါဂတိ
ရှိသည်ဟု မိန့်တော် မူပြီဟု၊ သူတို့အား ပြော
၁၈ လော့။- သူတို့သည်သင်၏စကားကိုနားထောင်
၍၊ သင်သည်ဣသရေလအမျိုးသားအသက်ကြီး
သူများပါလျက်၊ အဲဂုတ္တုရှင်ဘုရင်ထံသို့ဝင်သ
ဖြင့်၊ ဟေဗြဲလူတို့၏ဘုရားသခင် ထာဝရဘုရား
သည်၊ အကျွန်ုပ်တို့နှင့်တွေ့တော်မူပြီ၊ အကျွန်ုပ်
တို့၏ ဘုရားသခင် ထာဝရ ဘုရားအား ယဇ်ပူ
ဇော်ခြင်းငှါ၊ တောသို့သုံးရက်ခရီးသွားရသော
၁၉ အခွင့်ကိုပေးတော်မူပါဟုလျှောက်ရမည်။- အဲ
ဂုတ္တုရှင်ဘုရင်သည် ကြီးစွာသော တန်ခိုးကို
မတွေ့ မမြင်လျှင်၊ သွား ရသော အခွင့် ကိုသင်
၂၀ တို့အား မပေး ကြောင်းကို ငါသိ၏။- ငါသည်
လည်း လက်ကိုဆန့်၍၊ အဲဂုတ္တုပြည်ထဲ၌ငါပြု
လတံ့သော၊ ငါ၏အံ့ဘွယ်သောအမှုရှိသမျှတို့နှင့်
ထိုပြည်ကိုဒဏ်ခတ်မည်။ ထိုနောက်အဲဂုတ္တု
၂၁ ရှင်ဘုရင်သည်သင်တို့ကိုလွှတ်လိမ့်မည်။- ထိုလူ
မျိုးသည် အဲဂုတ္တု လူတို့ထံ၌ မျက်နှာ ရသော
အခွင့်ကိုငါပေး၍၊ သင်တို့သည်ထွက်သွားသော
၂၂ အခါ၊ လက်ချည်းမသွားရကြ။- အကြောင်းမူ
ကား၊ မိန်းမတိုင်း မိမိ အိမ်နီးချင်း၊ မိမိ အိမ်မှာ
တည်းသောသူ၌၊ ငွေတန်ဆာ၊ ရွှေတန်ဆာနှင့်
အဝတ် တန်ဆာ များကို တောင်း၍၊ သင်တို့
သား သမီး များကို တန်ဆာ ဆင်စေ သဖြင့်၊ အဲ
ဂုတ္တု လူတို့၏ ဥစ္စာကို လုယူကြလိမ့်မည်ဟု၊
မောရှေအားမိန့်တော်မူ၏။

၄

၁ မောရှေကလည်း၊ ထိုသူတို့သည်အကျွန်ုပ်ကို
မယုံ၊ အကျွန်ုပ်စကားကိုနားမထောင်ဘဲနေ၍၊
ထာဝရဘုရားသည်သင့်အားထင်ရှားတော်မမူ
ဟု ဆိုကြပါလိမ့်မည်ဟု ပြန်လျှောက် လေ၏။-
၂ ထာဝရဘုရားကလည်း၊ သင်၏လက်၌အဘယ်
အရာရှိသနည်းဟုမေးတော်မူလျှင်၊ လှံတံရှိပါ၏
၃ ဟု လျှောက်၏။- မြေပေါ်မှာပစ်ချလော့ဟု မိန့်
တော်မူသည်အတိုင်း၊ ပစ်ချသဖြင့်၊ လှံတံသည်
မြွေဖြစ်၍၊ မောရှေသည် ထွက်ပြေးလေ၏။-
၄ ထာဝရဘုရားကလည်း၊ သင့်လက်ကိုဆန့်၍မြွေ

အမြီးကိုကိုင်ဖမ်းလော့ဟု မိန့်တော်မူသည်အ
တိုင်း၊ မောရှေသည် လက်ကိုဆန့်၍ ဖမ်းမိသ
၅ ဖြင့်၊ သူ၏လက်၌ လှံတံဖြစ်ပြန်လေ၏။— ထိုသို့
သော်သူတို့ဘိုးဘေးများ၏ ဘုရားသခင်၊ အာဗြ
ဟံ၏ ဘုရား၊ ဣဇာက် ၏ ဘုရား၊ ယာကုပ် ၏
ဘုရားတည်းဟူသော၊ထာဝရဘုရားသည်သင့်
အားထင်ရှားတော်မူကြောင်းကို၊ထိုသူတို့သည်
ယုံကြည်လိမ့်မည်ဟုမိန့်တော်မူ၏။
၆ တစ်ဖန်ထာဝရဘုရားက၊ သင်၏လက်ကိုသင်
၏ရင်ခွင်သို့သွင်းလော့ဟု မိန့်တော်မူသည်အ
တိုင်း၊ထိုလက်ကိုရင်ခွင်သို့သွင်း၍ထုတ်ပြန်သော
အခါ၊ ထိုလက်သည် မိုဃ်းပွင့် အဆင်း ကဲ့သို့ နူ
၇ လေ၏။— တစ်ဖန် သင်၏လက်ကို သင့်ရင်ခွင် သို့
သွင်းဦးလော့ဟု မိန့်တော်မူသည်အတိုင်း၊ ထ
ိုလက်ကိုရင်ခွင်သို့သွင်း၍ ထုတ်ပြန်သောအ
၈ ခါ၊ ပကတိအသား ဖြစ်ပြန်လေ၏။— ထိုသူ တို့
သည်သင့်ကိုမယုံ၊ ပဌမနိမိတ်သက်သေကိုနား
မထောင်လျှင်၊နောက်ဖြစ်သောနိမိတ်သက်သေ
၉ ကိုယုံကြည်လိမ့်မည်။— သို့မဟုတ်၊ ထိုနိမိတ်နှစ်
ပါးကိုမယုံ၊ သင်၏စကားကိုနားမထောင်လျှင်၊
သင်သည် မြစ်ရေအချို့ကိုယူ၍၊ ကုန်းပေါ်မှာ
သွန်းလော့၊ ထိုသို့မြစ်ထဲက ယူသော ရေသည်
ကုန်းပေါ်မှာအသွေးဖြစ်လိမ့်မည်ဟု မိန့်တော်
မူ၏။
၁၀ မောရှေကလည်း၊ အိုဘုရားရှင်၊ အကျွန်ုပ်
သည် နှုတ်သတ္တိမရှိပါ။ အထက်ကလည်းမရှိပါ။
ကိုယ်တော်ကျွန်အား မိန့်တော်မူသော အခါ၌
လည်းမရှိပါ။ နှုတ်လေးသောသူ၊ စကား နှေးနှေး
ပြော တတ်သောသူဖြစ်ပါ၏ဟု၊ ထာဝရဘုရား
၁၁ အားလျှောက်ဆို၏။— ထာဝရဘုရားကလည်း၊
လူ၏နှုတ်ကို အဘယ်သူ ဖန်ဆင်း သနည်း။ စ
ကားမပြောသောသူ၊ နားပင်းသောသူ၊ မျက်စိမြင်
သောသူ၊ မမြင် သော သူတို့ကို အဘယ်သူ ဖန်
ဆင်းသနည်း။ငါထာဝရဘုရားဖန်ဆင်းသည်မ
၁၂ ဟုတ်လော။— ထိုကြောင့်ထ၍သွားလော့၊ သင်၏
နှုတ်၌ငါရှိ၍၊ သင်သည်အဘယ်သို့ပြောရမည်
၁၃ ကိုသွန်သင်မည်ဟု မိန့်တော်မူ၏။— မောရှေက
လည်း၊ အိုဘုရားရှင်၊ အလိုတော်ရှိသောသူ၏
လက် တွင် စေ ထိုတ် တော် မူပါဟု လျှောက်
၁၄ ဆော်၊— ထာဝရဘုရားသည် မောရှေအား အ
မျက်တော်ထွက်၍၊ လေဝိအမျိုးအာရုန်သည်သင်
၏အစ်ကို [illegible]

စွန့်စွာ ပြောတတ် သည်ကို ငါသိ၏၊ သူ သည်
လည်းသင့်ကို ခရီးဦးကြိုပြုခြင်းငှါ လာစုလာ၏၊
တွေ့ မြင်သောအခါ၊ ဝမ်းမြောက် လိမ့်မည်။—
၁၅ ထိုသင် သည် သူနှင့် စကား ပြော၍၊ သူပြောစရာ
စကားကိုပေးရမည်၊သင်၏နှုတ်၌၎င်၊သူ၏နှုတ်
၌၎င်ငါရှိ၍၊ သင်တို့သည်အဘယ်သို့ပြုရမည်
၁၆ ကိုသွန်သင်မည်။— သူသည်လည်း လူတို့ရှေ့မှာ
သင်၏ စကားပြန်လုပ်၍၊ သင်၏နှုတ်ကိုယ်စား
ဖြစ်လိမ့်မည်။ သင်သည်လည်း သူ၏ဘုရားသ
၁၇ ခင်ကိုယ်စားဖြစ်လိမ့်မည်။— သင်သည်၊ နိမိတ်
သက်သေတို့ကိုပြုလတ္တံ့သော ဤလှံတံကိုလည်း၊
သင်၏လက်၌ ကိုင်ရမည်ဟုမိန့်တော်မူ၏။
၁၈ မောရှေသည်လည်းယောက္ခမယေသရောထံ
သို့ပြန်သွား၍၊အဲဂုတ္တုပြည်၌ရှိသောကျွန်ုပ်၏အ
မျိုးသားချင်းတို့သည်၊ အသက်ရှင်သေးသလော
ဟုကြည့်ရှုခြင်းငှါ၊ သူတို့ရှိရာသို့ကျွန်ုပ်သွားရ
သောအခွင့်ကိုပေးပါလော့ဟုဆိုသော်၊ယေသ
ရောက၊ ငြိမ်ဝပ်စွာ သွားလော့ဟု ပြန်ဆို လေ
၁၉ ၏။— ထာဝရဘုရားကလည်း၊အဲဂုတ္တုပြည်သို့
ပြန်သွားလော့၊ သင်၏အသက်ကို ရှာသောသူ
အပေါင်းတို့သည်သေကြပြီဟု၊မိဒျန်ပြည်၌မော
၂၀ ရှေအားမိန့်တော်မူ၏။— ထိုအခါ၊မောရှေသည်
မယားနှင့် သားနှစ်ယောက်တို့ကိုယူ၍မြည်းကိုစီး
စေသဖြင့်၊ ဘုရားသခင်၏လှံတံတော်ကိုလက်၌
၂၁ ယူ၍၊ အဲဂုတ္တုပြည်သို့ပြန်လေ၏။— ထာဝရ
ဘုရား ကလည်း၊ သင်သည် အဲဂုတ္တု ပြည်သို့
သွား၍ ရောက်လျှင်၊ သင်၌ ငါ အပ်သော အံ့
ဩဖွယ်သောအမှုအလုံးစုံတို့ကို ဖာရောဘုရင်ရှေ့
မှာပြလော့၊ထိုသို့ပြသော်လည်း၊သူ၏နှလုံးကို
ငါခိုင်မာစေ၍၊ သူသည် ဣသရေလလူတို့ကို မ
၂၂ လွှတ်ဘဲနေလိမ့်မည်။— ဖာရော ဘုရင်ကိုလည်း၊
ထာဝရဘုရားက ဣသရေလသည် ငါ့သား၊ဖြစ်၏။
၂၃ သားဦး ဖြစ်၏။— ငါ့သားသည် ငါ့အားဝတ်ပြု
သောအခွင့်ရှိစေခြင်းငှါလွှတ်လော့။မလွှတ်ဘူး
ဟုငြင်းလျှင်၊ သင်၏သား၊ သင်၏သားဦးကိုပင်
ငါကွပ်မျက်မည်ဟု၊ မိန့်တော်မူကြောင်းကိုဆင့်
ဆိုလော့ဟု၊မောရှေအားမှာထားတော်မူ၏။
၂၄ ခရီးသွားစည်တွင်း၊ စားခန်းဇရပ်၌ထာဝရ
ဘုရားသည်မောရှေကိုတွေ့၍ ကွပ်မျက်ခြင်းငှါ
၂၅ ရှာကြံတော်မူ၏။— ထိုအခါ၊ဇိပေါရသည်ထား
ကိုယူ၍၊ သား၏ အရေဖျားကို ဖြတ်ပြီးမှ၊
သင်၏ခြေရင်း၌ပစ်ချလျက်၊ [illegible]

အင်သည်အကျွန်ုပ်၌အသွေးနှင့်ရှည်သောထင်
၂၇ ဖြစ်သည်ဟုဆို၏။— ထိုအခါ မောရှေကို တွေ့
ဆော်မူ၏၊ မယားကလည်း၊ အရေဖျားလှီးမပြီး
ထားကြောင့်၊ ထင်သည်အကျွန်ုပ်၌ အသွေးခင်
ရှည်သောထင်ဖြစ်၏ဟုဆိုသတည်း။
၂၈ ထာဝရ ဘုရားကလည်း၊ မောရှေကိုခရီးဦး
ကြိုဖြို့ခြင်းငှါ တောသို့ သွားလော့ဟု၊ အာရုန်
အား မိန့်တော် မူသည်အတိုင်း၊ အာရုန် သည်
သွားလျှင်၊ ဘုရားသခင်၏တောင်ပေါ်၌မောရှေ
၂၉ ကိုတွေ့၍နမ်းခြင်းကိုပြု၏။—မောရှေသည်ထဉ်း
မိမိကို စေလွှတ်တော်မူသော ထာဝရ ဘုရား၏
စကားတော်အလုံးစုံတို့ကိုငှင်၊ မှာထားတော်မူ
ထမျှသော နိမိတ်သက်သေ တို့ကိုငှင်၊ အာရုန်
အား ကြားပြောထေ၏။
၃၀ ထိုသူညီနောင် နှစ်ပါးတို့ ချည်သွား၍၊ ဣသ
ရေလ အမျိုးသား အသက်ကြီးသူတို့ကို စုဝေး
၃၁ စေပြီးလျှင်၊— အာရုန်သည်၊ မောရှေအားထာဝ
ရဘုရား မိန့်တော်မူသော စကားတော် အလုံးစုံ
တို့ကိုပြန်ပြော၍၊ လူတို့ရှေ့မှာ နိမိတ်သက်သေ
၃၂ တို့ကိုပြလေ၏။—ထိုလူများတို့သည်ယုံကြ၏။ထာ
ဝရဘုရားသည်၊ဣသရေလအမျိုးသားတို့ကိုအ
ကြည့်အရှုကြွတော်မူသည် ကိုငှင်၊ သူတို့ခံရ
သော ဆင်းရဲခြင်းကို မှတ်တော်မူသည်ကိုငှင်
ကြားသောအခါ၊ဦးညွတ်ချ၍ကိုးကွယ်ကြ၏။

၅

၁ ထိုနောက်မှ၊မောရှေနှင့်အာရုန်သည်ဖါရော
ဘုရင်ထံသို့ဝင်၍၊ဣသရေလအမျိုး၏ဘုရားသ
ခင် ထာဝရဘုရားက၊ ငါ၏လူတို့သည် တော၌
ငါအဖို့ပွဲခံစေခြင်းငှါလွှတ်ရမည်ဟု၊ မိန့်တော်မူ
၂ ကြောင်းကိုလျှောက်၏။-ဖါရောမင်းကလည်း၊
ထာဝရဘုရား၏ စကားကိုနားထောင်၍၊ ဣသ
ရေလအမျိုးသားတို့ကို ငါလွှတ်စေခြင်းငှါ၊ ထို
ဘုရားကား အဘယ်သူနည်း။ ထာဝရဘုရားကို
ငါမသိ၊ဣသရေလအမျိုးသားတို့ကိုငါမလွှတ်
၃ ဟုဆိုလေ၏။-သူတို့ကလည်း၊ဟေဗြဲလူတို့၏ဘု
ရားသခင်သည်၊ ကျွန်ုပ်တော်တို့နှင့် တွေ့တော်မူ
ပြီ။ တောသို့သုံးရက်ခရီးသွား၍၊ကျွန်တော်တို့
ဘုရားသခင်၊ ထာဝရဘုရားအားယဇ်ပူဇော်ရ
သောအခွင့်ကိုပေးတော်မူပါ၊ ထိုမဟုတ်၊ကာလသ
နာလေ၊ ထားလေတခုခုဖြင့်၊ ကျွန်တော်တို့
ထိုး၍ဒဏ်ခတ်တော် မူလိမ့်မည်ဟု လျှောက်ဆို
၄ သ၏။—ဧဂုတ္တုရှင်ဘုရင်ကလည်း၊ မောရှေနှင့်အာ
ရုန်၊ အင်ထို့သင်တို့ဤလူများတို့ကိုအလုပ်ကြောင့်
အလုပ် ပြတ်စေသနည်း။ အမှုတော်ကို သွား၍
၅ ဆောင်ရွက်ကြလော့ မိန့်တော်မူ၏။— ယခုတည်း
ပြည်တော်၌ထိုလူတို့သည် ထုများကြ၏။ အမှု
ထမ်းစေခြင်းငှါ သင်တို့သည် အခွင့်ပေးကြသည်
၆ တကားဟု၊ဖါရောဘုရင်ဆို၍၊-ထိုနေ့ချင်းတွင်၊
အချုပ်အချုပ်၊ အကြပ်၊ အဆော်တို့ကို ခေါ်ပြီး
၇ လျှင်၊— အုတ် လုပ်စရာအို ကောက်ရိုးကို လူတို့
အား အရင်ပေးသကဲ့သို့ မပေးနှင့်၊ သူတို့သည်
၈ ကောက်ရိုးကို ကိုယ်တိုင်ရှာယူကြစေ။— အုတ်ကို
ထား၊ အရေအတွက်အားဖြင့် အရင်ကဲ့သို့လုပ်
စေရမည်၊အလျှင်းမလျော့စေနှင့်၊ သူတို့သည်
ပျင်းရိကြ၏၊ ထိုကြောင့်၊ သွား၍ငါတို့ဘုရားသ
ခင်အားယဇ်ပူဇော်ကြစို့ဟု အော်ကြော် ထက်
၉ ကြ၏။— သို့ဖြစ်၍စဉ်းကြပ်လျက်လုပ်စေကြ။မဟုတ်
ပန်းစေကြ၊လုမိုက်စကားကိုနားမထောင်စေနှင့်
၁၀ ဟု မိန့်တော်မူ၏။— အချုပ် အချုပ် အကြပ်အ
ဆော်တို့သည်ထွက်၍၊ဖါရောဘုရင်ကကောက်
၁၁ ရိုးကိုငါမပေး။—ကောက်ရိုးကိုတွေ့နိုင်ရာအရပ်
၌ရှာကြ။ သို့သော်လည်း၊လုပ်ရသောအလုပ်အ
လျှင်း မလျော့ရဟု၊ အမိန့်တော် ရှိသည်ဟု လူ
၁၂ တို့အား ပြန်ကြားကြ၏။— သို့ဖြစ်၍ လူတို့သည်
ကောက်ရိုး အတွက် အမှိုက်ကို ရှာယူခြင်းငှါ၊
အဲဂုတ္တုပြည် တရှောက်လုံးတွင် အရပ်ရပ်ကွဲ
၁၃ ပြားကြ၏။— အုပ်ချုပ်သော သူတို့ က လည်း၊
ကောက်ရိုးကိုရသည် ကာလ၌ နေ့တိုင်းလုပ်ရ
သည့်အတိုင်း၊ပြီးဆောင်လုပ်ကြဟုသူတို့ကို နှိုး
၁၄ ဆော်ကြ၏။— ဖါရောမင်း၏ အချုပ်အချုပ် တို့
ထည့်ခန့်ထားသော ဣသရေလအမျိုး အကြပ်
အဆော်တို့ကို၊သင်တို့သည်အရင်ကလုပ်သည်
အတိုင်း၊ ယနေ့ နှင့်မနေ့၌အုတ်လုပ်ရသောအမှု
ကို၊ အဘယ်ကြောင့် မပြီးမစီး စေကြသနည်းဟု
၁၅ စစ်၍ရိုက်ကြ၏။-ထိုအခါ၊ဣသရေလအမျိုးအ
ကြပ် အဆော်တို့သည်၊ ဖါရောမင်းထံသို့သွား
၍၊ ကိုယ်တော်သည်ကိုယ်တော်ကျွန်တို့ကို၊အ
၁၆ ဘယ်ကြောင့်ဤသို့ပြုရင်တော်မူသနည်း။-ကိုယ်
တော်ကျွန်တို့အား၊ ကောက်ရိုးကိုမပေး၊ အုပ်
ချုပ်သော သူတို့ကလည်း၊ အုတ်ကိုလုပ်ကြဟု
ဆိုသဖြင့်၊ကျွန်တော်တို့သည်အရိုက်ခံရကြပါ
၏၊ ကိုယ်တော်လူတို့၌သာ အပြစ်ရှိပါသည်ဟု
၁၇ လျှောက်ကြ၏။— ဖါရောဘုရင်ကလည်း၊သင်
တို့သည်ပျင်းရိကြသည်၊ ပျင်းရိကြသည်၊ ထိုကြောင့်

ငါတို့သည်သွား၍၊ ထာဝရဘုရားအားယဇ်ပူ
၁၈ ဇော်ကြစို့ဟုသင်တို့ဆိုတတ်ကြ၏။- ထို့ကြော
ကြောင့် ယခုသွား၍လုပ်ကြ။ ကောက်ရိုးကို မ
ပေးရ၊ သို့သော်လည်း၊ အုတ်ကို ပေးမြဲပေးရ
မည်ဟုမိန့်တော်မူ၏။
၁၉ ထိုသို့ နေ့တိုင်း လုပ်ရသော အုတ် အရေ အ
တွက်၌အလျှင်းမလျော့ရဟုအမိန့်တော်ရှိသည်
ဖြစ်၍၊ ဣသရေလအမျိုး အကြပ် အဆော် တို့
သည်၊ မိမိတို့၌အမှုကြီး ရောက်ကြောင်းကိုသိ
၂၀ မြင်ကြ၏။-ဖာရောမင်းထံမှထွက်သွားကြစဉ်၊
လမ်း၌စောင့်လျှက်နေသောမောရှေနှင့်အာရုန်
၂၁ တို့တွေ့လျှင်၊- ထာဝရဘုရားသည်၊ သင်တို့ကို
ကြည့်ရှု၍စီရင်တော်မူပါစေသော၊ အကြောင်း
မူကား၊ ဖာရောမင်းနှင့် အမှုတော် ထမ်း အ
ပေါင်းတို့သည်၊ငါတို့ကို ရွံရှာစေခြင်းငှါလည်း၊ငါ
တို့ကို သတ်ရသောအခွင့်ရှိစေခြင်းငှါလည်း၊ သင်
၂၂ တို့သည်ပြုကြပြီတကားဟုဆိုကြ၏။- မောရှေ
သည်ထပြီး၊ထာဝရဘုရားထံတော်သို့သွား၍၊
အိုဘုရားရှင်၊ ကိုယ်တော်သည် ဤလူမျိုးကိုအ
ဘယ်ကြောင့် ညှဉ်းဆဲတော်မူသနည်း၊ အ
ကျွန်ုပ်ကို အဘယ်ကြောင့် စေလွှတ်တော်မူသ
၂၃ နည်း။- အကျွန်ုပ်သည် ကိုယ်တော် အခွင့်နှင့်
ပြောခြင်းငှါ၊ ဖာရောမင်းထံသို့ ဝင်သည်နေ့မှ
စ၍၊သူသည်ဤလူမျိုးကိုညှဉ်းဆဲပါပြီ၊ ကိုယ်
တော်သည် ကိုယ်တော်၏ လူတို့ကို၊ အလျှင်း
ကယ်လွှတ်တော်မမူပါဟုလျှောက်၏။

၆

၁ ထာဝရဘုရားကလည်း၊ငါသည်ဖာရောမင်း
၌အဘယ်သို့ပြုမည်ကို သင်သည်ယခု သိလိမ့်
မည်။ သူသည်ကြီးစွာသောတန်ခိုးကိုတွေ့မြင်
၍၊ငါ၏လူတို့ကိုလွှတ်ရလိမ့်မည်၊ကြီးစွာသော
တန်ခိုးကို တွေ့မြင်၍၊ သူတို့ကိုမိမိပြည်မှ နှင်ရ
လိမ့်မည်ဟု၊မောရှေအားမိန့်တော်မူ၏။
၂ တဖန် ဘုရားသခင်သည် မောရှေ၌ ဗျာဒိတ်
ထားတော်မူသည်ကား၊ငါသည်ထာဝရဘုရား
၃ ဖြစ်၏။- ငါသည်အာဗြဟံ၊ ဣဇာက်၊ ယာကုပ်
တို့အား၊အနန္တတန်ခိုးရှင်၊ဘုရားသခင်နာမနှင့်
ထင်ရှားသော်လည်း၊ ထာဝရဘုရားနာမအား
၄ ဖြင့်သူတို့သည်ငါ့ကိုမသိကြ။-သူတို့သည်အရပ်
ရပ်ဧည့်သည်၍၊ဧည့်သည်နေရာပြည်၊ခါနာန်ပြည်
ကို သူတို့အားပေးခြင်းငှါ၊ သူတို့နှင့်ငါပြုသော
၅ ပဋိညာဉ်ကိုငါတည်စေပြီ။-အဲဂုတ္တုလူတို့သည်
အစေခံစေသော ဣသရေလအမျိုးသားတို့
၏ညည်းတွား၊ မြည်တမ်းခြင်းအသံကိုငါကြား
၆ ရပြီ၊ငါပြုသောပဋိညာဉ်ကိုလည်းငါအောက်မေ့၏။-ထို
ကြောင့် ဣသရေလအမျိုးသားတို့အား ပြောရ
သော စကားဟူမူကား၊ ငါသည်ထာဝရဘုရား
ဖြစ်၏။ ငါသည်လည်းသင်တို့ကိုအဲဂုတ္တုလူတို့
ထံ မှ လွှတ်၍၊ သူတို့၏ ညှဉ်းဆဲခြင်း၊ ထမ်းလ
နှုတ်ယူမည်၊လက်ဆန့်ခြင်း၊ကြီးစွာသောအပြစ်ဒဏ်
၇ ခတ်ခြင်းအားဖြင့်၊သင်တို့ကိုငါရွေးမည်။- ငါ
၏လူမျိုး ဖြစ်စေခြင်းငှါ၊ သင်တို့ကို ငါသိမ်းယူ
မည်။ ငါသည်လည်းသင်တို့၏ဘုရားသခင်ဖြစ်
မည်။ ငါသည်သင်တို့ကို အဲဂုတ္တုလူတို့ထံ
မှ လွှတ်သော၊ သင်တို့၏ ဘုရား သခင် ထာဝရ
ဘုရားဖြစ်ကြောင်းကိုသင်တို့သိကြလိမ့်မည်။-
၈ ငါသည်လည်း၊အာဗြဟံ၊ဣဇာက်၊ယာကုပ်တို့
အား ပေးမည်ဟု၊ ကျိန်ဆိုသော ပြည်သို့ ငါပို့
ဆောင်၍၊ အမွေခံစရာဘို့ ပေးမည်။ ငါသည်
၉ ထာဝရ ဘုရားဖြစ်၏ဟု မိန့်တော်မူ၏။- ထိုသို့
မောရှေသည် ဣသရေလ အမျိုးသား တို့အား
ဆင့်ဆိုသော်လည်း၊ သူတို့သည်အလွန်စိတ်ပျက်
ပန်း၍၊ ကြမ်းတမ်းစွာ ညှဉ်းဆဲခြင်းကို ခံရ
သောကြောင့်၊ မောရှေစကားကို နား မထောင်
ဘဲနေကြ၏။
၁၀ ထာဝရဘုရားကလည်း၊ အဲဂုတ္တုရှင်ဘုရင်
၁၁ ဖာရောမင်းထံသို့ဝင်၍၊ သူသည်ဣသရေလအ
မျိုးသားတို့ကို မိမိပြည်မှလွှတ်ရမည်အကြောင်း
၁၂ ပြောလော့ဟု၊မောရှေအားမိန့်တော်မူ၏။-မော
ရှေကလည်း၊ဣသရေလအမျိုးသားတို့သည်အ
ကျွန်ုပ် ပြောသောစကားကို နားမထောင်ဘဲ နေ
သည်ဖြစ်၍၊အရေဖျားလှီးခြင်းကိုမခံသောနှုတ်
နှင့် ပြောတတ်သော အကျွန်ုပ်၏ စကားကိုဖာ
ရောမင်းသည် အဘယ်သို့ နားထောင် ပါမည်
နည်းဟု၊ ထာဝရဘုရားရှေ့မှာလျှောက်ဆို၏။-
၁၃ ထိုရာတွင် မောရှေနှင့်အာရုန်သည် ဣသရေလ
အမျိုးသားတို့ကို အဲဂုတ္တုပြည်မှနှုတ်ဆောင်ရ
မည်အကြောင်း၊ ထာဝရဘုရားသည် သူတို့ကို
ခေါ်၍၊ ဣသရေလအမျိုးသားတို့ထံသို့၎င်း၊ အဲ
ဂုတ္တုရှင်ဘုရင်ဖာရောမင်းထံသို့၎င်း၊စေခိုင်းမှာ
ထားတော်မူ၏။
၁၄ ဣသရေလ အဆွေအမျိုး သူကြီးတို့၏အမည်
ဟူမူကား၊ ဣသရေလ သားဦး ရုဗင်၏ သား
တို့ကား၊ ဟာနုတ်၊ဖလ္လု၊ ဟေဇရုံ၊ ကာမိတည်း။

၁၅ ဤသူတို့သည် ရုဗင်အမျိုး၊ အနွယ်ဖြစ်၏။- ရှိ
မောင်၏သားကား၊ ယေမွေလ၊ ယာမိန်၊ ဩဟဒ်၊
ယာခိန်၊ ဇောဟာ၊ ခါနာန်အမျိုးသမီးမှ ၏သား
ရှောလတည်း။ ဤသူတို့သည် ရှိမောင် အမျိုး၊
၁၆ အနွယ်ဖြစ်၏။- လေဝိ သား၊ အဆွေအမျိုး အ
လိုက်ဟူမူကား၊ ဂေရရှုံ၊ ကောဟတ်၊ မေရာရိ
တည်း။ လေဝိအသက်သည် အနှစ် တရာ သုံး
၁၇ ဆယ် ခုနှစ်နှစ် ရှိသတည်း။- ဂေရရှုံသား အ
ဆွေ အမျိုး၊ အလိုက် ဟူမူကား၊ လိဗနိနှင့် ရှိမိ
၁၈ တည်း။- ကောဟတ်သားကား၊ အာမရံ၊ ဣဇ
ဟာ၊ ဟေဗြုန်၊ ဩဇေလတည်း။ ကောဟတ်
အသက်သည် အနှစ် တရာသုံးဆယ် သုံးနှစ်ရှိ
၁၉ သတည်း။- မေရာရိသားကား၊ မဟာလိနှင့်မုရှိ
တည်း။ ဤသူတို့သည် လေဝိ အဆွေအမျိုး၊ အ
၂၀ သီးအသီးဖြစ်သတည်း။- အာမရံသည် မိမိအရီး
ယောခေဗက်နှင့်စုံဖက်၍၊ သူသည်အာရုန်နှင့်
မောရှေ ကိုဖွား၏၊ သူတို့အစ်မ မိရိအံ ကိုဖွား
၏။ အာမရံအသက်သည် အနှစ် တရာသုံး
၂၁ ဆယ်ခုနှစ်နှစ်ရှိသတည်း။- ဣဇဟာသားကား၊
၂၂ ကောရ၊ နေဖက်၊ ဇိခရိတည်း။- ဩဇေလသား
၂၃ ကား၊ မိရှေလ၊ ဧလဇာဖန်၊ သိသရိတည်း။- အာ
ရုန်သည် အမိနဒပ်သမီး၊ နာရှုန်နှစ်မဧလိရှေဘနှင့်
စုံဖက်၍၊ သူသည်နာဒပ်၊ အဘိဟု၊ ဧလာဇာ၊ ဣ
၂၄ သမာ တို့ကို ဖွား၏။- ကောရ သားကား၊
အဿိရ၊ ဧလကာန၊ အဗျာသပ်တည်း။ ဤသူတို့
၂၅ သည်ကောရအဆွေအမျိုးဖြစ်သတည်း။- အာ
ရုန်သား ဧလဇာသည် ပုတေလသမီးတယောက်
နှင့်စုံဖက်၍၊ သူသည် ဖိနဟတ်ကို ဖွား၏။
ဤသူတို့သည် လေဝိအမျိုး၊ အသီးအသီးတို့၏
၂၆ အဆွေအမျိုး သူကြီးဖြစ်ကြသတည်း။- ထာဝရ
ဘုရားက၊ ဣသရေလအမျိုးသား မိုလ်ပါ တို့ကို
အဲဂုတ္တုပြည်မှ နှုတ်ဆောင်လော့ဟု၊ မိန့်တော်
၂၇ မူသောစကားကို ခံသောသူ၊- ဣသရေလအမျိုး
သားတို့ကို အဲဂုတ္တုပြည်မှနှုတ်ဆောင်ခြင်းငှါ၊
အဲဂုတ္တုရှင်ဘုရင် ဖာရောမင်းထံ၌ လျှောက်ရ
သော သူတို့သည်၊ ထိုအာရုန်နှင့် မောရှေ ဖြစ်
သတည်း။
၂၈ အဲဂုတ္တုပြည်မှာ ထာဝရဘုရားသည်၊ မော
ရှေအား ဗျာဒိတ် ထားတော်မူသော နေ့ရက် ၌
၂၉ လည်း၊- ငါသည်ထာဝရ ဘုရားဖြစ်၏၊ ငါမှာ
လိုက်သမျှတို့ကို၊ အဲဂုတ္တုရှင်ဘုရင်ဖာရောမင်း
အား၊ ပြန်ပြောရမည်ဟု၊ မောရှေအားထာဝရ
၃၀ ဘုရား မိန့်တော်မူ၏။- မောရှေက ထည်း။ အ
ကျွန်ုပ်သည် အရေဖျားလှီးခြင်းကိုမခံသောနှုတ်
ရှိသည် ဖြစ်၍၊ ဖာရော ဘုရင်သည် အကျွန်ုပ်
စကားကို အဘယ်သို့ နားထောင် ပါလိမ့် မည်
နည်းဟု၊ ထာဝရဘုရားရှေ့မှာလျှောက်ဆို၏။

၇

၁ ထာဝရဘုရားကလည်း၊ ထိုမြင်၍သင့်ကိုဖာ
ရောဘုရင်၏ဘုရားအရာ၌ငါခန့်ထား၏။သင်၏
အစ်ကို အာရုန်သည်၊ သင်၏ ပရောဖက် ဖြစ်ရ
၂ လိမ့်မည်။- ငါမိန့်တော်မူသမျှတို့ကို သင်သည်
ပြန်ပြောရမည်။ ဖာရောဘုရင်သည်ဣသရေလ
အမျိုးသားတို့ကို မိမိပြည်မှ လွှတ်လိုက်ရမည်
အကြောင်းကို၊ သင်၏အစ်ကိုအာရုန်သည် ဆို
၃ ထံ၌လျှောက်ရမည်။- ငါသည်လည်း ဖာရော
မင်း၏ နှလုံးကိုခိုင်မာစေ၍၊ အဲဂုတ္တုပြည်၌
ငါ၏နိမိတ်လက္ခဏာ၊ အံ့ဩဘွယ်သောအမှုတို့ကို
၄ များပြားစေမည်၊- ထိုသော်လည်း၊ ဖာရောမင်း
သည် သင်တို့စကားကိုနားမထောင်ဘဲ နေလိမ့်
မည်။ ငါသည်လည်း လက်ကိုအဲဂုတ္တုပြည်
အပေါ်မှာတင်၍၊ ကြီးစွာသော စီရင်တော်ခြင်း
အားဖြင့်၊ ငါ၏ဗိုလ်ပါများ၊ ငါ၏လူဣသရေလ
အမျိုးသားတို့ကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်
၅ မည်၊-ထိုသို့အဲဂုတ္တုပြည်အပေါ်မှာလက်ကို
ဆန့်၍၊ ဣသရေလ အမျိုးသားတို့ကို သူတို့အ
ထဲမှ နှုတ်ဆောင်သောအခါ၊ ငါသည်ထာဝရ
ဘုရားဖြစ်ကြောင်းကို၊ အဲဂုတ္တုလူတို့သည်သိ
ကြလိမ့်မည်ဟု၊ မောရှေအား မိန့်တော်မူ၏။-
၆ မောရှေနှင့် အာရုန်တို့သည် ထာဝရဘုရားမိန့်
၇ တော်မူသမျှအတိုင်းပြုကြ၏။-ဖာရောဘုရင်ထံ
၌ လျှောက်ကြသောအခါ၊ မောရှေ၏အသက်
သည် အနှစ် ရှစ်ဆယ်ရှိ၏၊ အာရုန်၏ အသက်
သည် အနှစ်ရှစ်ဆယ် သုံးနှစ်ရှိ၏။
၈ တဖန် ထာဝရဘုရားသည် မောရှေနှင့် အာ
၉ ရုန်တို့အား မိန့်တော်မူသည်ကား။- ဖာရောဘု
ရင်က၊ သင်တို့အတွက် ထူးဆန်းသော တန်ခိုး
ကိုပြလော့ဟု ဆိုလျှင်၊ သင်၏လှံတံကိုယူ၍ရှေ့
တော်၌ ချလော့ဟု၊ အာရုန်အားပြောလော့။ လှံ
တံသည်လည်း၊ မြွေဖြစ်လိမ့်မည်ဟု မိန့်တော်မူ
၁၀ ၏။- မောရှေနှင့်အာရုန်သည် ဖာရောဘုရင်ထံ
သို့ဝင်၍၊ ထာဝရဘုရားမိန့်တော်မူသည့်အတိုင်း
ပြုသဖြင့်၊ အာရုန်သည်ဖာရောဘုရင်ရှေ့၊ ထို၏
၁၁ ကျွန်များရှေ့မှာလှံတံကိုချ၍ မြွေဖြစ်လေ၏။- ထို

အခါ ဖာရောဘုရင်သည်၊ ပညာရှိများ၊ ပြုစား
တတ်သောသူများတို့ကိုခေါ်၍၊ အဲဂုတ္တုအမျိုး
မှော်ဆရာတို့သည်၊ မှော်အတတ်အားဖြင့် ထို
၁၂ အတူပြု၍၊- မိမိတို့ကိုင်သော လှံတံများကိုချ၍
မြွေဖြစ်ကြလေ၏၊ ထိုသော်လည်း၊ အာရုန်၏လှံ
၁၃ တံသည်၊ သူတို့၏လှံတံများကိုမျိုလေ၏။- ထာ
ဝရဘုရား၊ မိန့်တော်မူသည့်အတိုင်း၊ ဖာရောဘု
ရင်သည်နှစ်လုံးခိုင်မာ၍၊ သူတို့၏စကားကိုနား
မထောင်ဘဲနေ၏။

၁၄ ထာဝရဘုရားကလည်း၊ ဖာရောဘုရင်သည်
နှစ်လုံးခိုင်မာ၍၊ ဗျူဟာရေလူတို့ကိုမလွှတ်ဘဲ
၁၅ နေ၏။- နံနက်အချိန်၌ဖာရောဘုရင်ထံသို့ သွား
လော့၊ သူသည်ရေဆိပ်သို့သွားလိမ့်မည်၊ သူမ
ရောက်မှီသင်သည်မြစ်ကမ်းနားမှာရပ်နေလော့၊
မြွေ ဖြစ်သော လှံတံ ကိုလည်း လက်တွင် ကိုင်
၁၆ လော့။- ဟေဗြဲ အမျိုးသားတို့၏ ဘုရားသခင်၊
ထာဝရဘုရားက၊ ငါ့လူတို့သည်တော၌ ငါ့အား
ဝတ်ပြုမည်အကြောင်း၊ သူတို့ကိုလွှတ်လော့ဟု
အမိန့်တော်ပါသော ကျွန်ုပ်ကို၊ ကိုယ်တော်ထံ
သို့ စေလွှတ်တော်မူပြီ၊ ကိုယ်တော်သည် ယခု
တိုင်အောင်နားမထောင်ဘဲနေပါသည်တကား။-
၁၇ ထာဝရဘုရားက၊ ငါသည် ထာဝရဘုရားဖြစ်
ကြောင်းကို၊ သင်သည် အဘယ်သို့ သိရ မည်
နည်းဟုမူကား၊ ငါကိုင်သော လှံတံနှင့် မြစ်ရေ
ကိုရိုက်၍၊ ထိုရေသည်အသွေး ဖြစ်လိမ့်မည်။-
၁၈ မြစ်၌ရှိသောငါးတို့သည်သေကြလိမ့်မည်၊ မြစ်
ရေသည်နံလိမ့်မည်၊ အဲဂုတ္တုလူတို့ သည်လည်း
မြစ်ရေကို ရွံကြလိမ့်မည်အကြောင်းကို ပြန်ပြော
လော့ဟု၊ မောရှေအားမိန့်တော်မူ၏။
၁၉ ထိုနောက်၊ ထာဝရ ဘုရားသည် မောရှေကို မိန့်
တော်မူပြန်သည်ကား၊ အာရုန်အား သင်၏လှံ
တံကိုယူ၍၊ အဲဂုတ္တုပြည်၌ရှိသော ချောင်းရေ၊
မြစ်ရေ၊ အိုင်အင်းရေ၊ ကန်ရေ၊ တွင်းရေ ရှိသမျှ
အပေါ်မှာလက်ကိုဆန့်လော့၊ ထိုရေရှိသမျှတို့
သည် အသွေး ဖြစ်လိမ့်မည်၊ အဲဂုတ္တုပြည် တ
ရှောက်လုံး၊ သစ်ခွက်၊ ကျောက်အိုး၌မှုမကြွင်း၊
အသွေးရှိလိမ့်မည်အကြောင်းကိုပြောလော့ဟု
၂၀ မိန့်တော်မူ၏။- မောရှေနှင့်အာရုန်သည်၊ ထာဝ
ရဘုရားမိန့်တော်မူသည့်အတိုင်းပြု၍၊ အာရုန်
သည်ဖာရောဘုရင်ရှေ့၊ သူ၏ကျွန်များရှေ့မှာလှံ
တံကိုချီ၍မြစ်ရေကိုရိုက်သဖြင့်၊ မြစ်ရေရှိသမျှ
၂၁ သည်အသွေးဖြစ်လေ၏။- မြစ်၌ရှိသော ငါးတို့
သည်လည်း သေကြ၍၊ မြစ်ရေနံ့ လေ့ကြောင့်၊
အဲဂုတ္တုလူတို့သည်မြစ်ရေကိုမသောက် နိုင်ကြ။
အဲဂုတ္တု ပြည်တရှောက် လုံး၌ အသွေး နှံ့ပြား
၂၂ လျှက်ရှိလေ၏။- အဲဂုတ္တု အမျိုးသား မှော်ဆ
ရာတို့လည်း၊ မှော်အတတ်အားဖြင့်ထိုအတူပြု
ကြ၏၊ ထာဝရဘုရားမိန့်တော်မူသည့်အတိုင်း၊
ဖာရော ဘုရင်သည် နှစ်လုံး ခိုင်မာ၍၊ သူတို့၏
၂၃ စကားကို နားမထောင်ဘဲနေ၏။- နန်းတော်သို့
လှည့်သပြန်သွား၍၊ ထိုအမှုကို နှစ်လုံးမသွင်း
၂၄ ဘဲနေလေ၏။- ထိုအခါ၊ အဲဂုတ္တုလူတို့သည်မြစ်
ရေကို မသောက်နိုင်သောကြောင့်၊ သောက်ရေ
၂၅ ကိုရခြင်းငှါမြစ်နားမှာတွင်းတူးကြ၏။- ထာဝ
ရဘုရားသည်မြစ်ကိုဒဏ်ခတ်၍၊ ခုနစ်ရက်ကို
လွန်စေတော်မူ၏။

၈

၁ ထာဝရဘုရားကလည်း၊ သင်သည်ဖာရောဘု
ရင်ထံသို့ဝင်၍၊ ငါ၏လူတို့သည် ငါ့အားဝတ်ပြု
၂ မည်အကြောင်း၊ သူတို့ကိုလွှတ်လော့။- မလွှတ်
ဘူးဟုငြင်းလျှင်၊ သင်၏ပြည် တရှောက်လုံးကို
၃ ဖားတို့ဖြင့်ဒဏ်ခတ်ဦးမည်။-မြစ်သည်လည်း
များစွာသော ဖားတို့ကို ပွား၍၊ သူတို့သည်သင်
၏အိမ်၌၎င်း၊ အိပ်ခန်း၌၎င်း၊ အိပ်ရာပေါ်၌၎င်း၊
သင်၏ကျွန်တို့အိမ်၌၎င်း၊ သင်၏လူတို့အပေါ်၌
၎င်း၊ သင်၏မီးဖို၌၎င်း၊ မုန့်နယ်သော ခွက်၌၎င်
၄ တက်ကြလိမ့်မည်။- သင်မှစ၍သင်၏လူ၊ သင်၏
ကျွန်ရှိသမျှတို့အပေါ်၌ တက်ကြလိမ့်မည်ဟု၊
ထာဝရဘုရား မိန့်တော်မူသည် အကြောင်းကို
ကြားပြောလော့ဟု၊ မောရှေအားမိန့်တော်မူ၏။
၅ တဖန် ထာဝရဘုရားသည် မောရှေအားမိန့်
တော်မူပြန်သည်ကား၊ အာရုန်သည်ချောင်းရေ၊
မြစ်ရေ၊ အိုင်အင်းရေတို့အပေါ်၌လှံတံကိုကိုင်
လျှက်၊ လက်ကိုဆန့်၍အဲဂုတ္တုပြည်အပေါ်သို့
ဖားများကို တက်စေခြင်းငှါ ပြောလော့ဟု မိန့်
၆ တော်မူ၏။-အာရုန်သည်အဲဂုတ္တုပြည်၌ရှိသော
ရေအပေါ်မှာလက်ကိုဆန့်သဖြင့်၊ ဖားတို့သည်
တက်၍ အဲဂုတ္တုပြည်တရှောက်လုံးကိုဖုံးလွှမ်း
၇ ကြ၏။- မှော်ဆရာ တို့သည်လည်း၊ မှော် အ
တတ်အားဖြင့်ထိုအတူပြု၍၊ ဖားတို့ကိုအဲဂုတ္တု
ပြည်အပေါ် သို့ဆောင်ကြ၏။
၈ ထိုအခါဖာရောမင်းသည်၊ မောရှေနှင့်အာရုန်
ကိုခေါ်၍၊ ထာဝရဘုရားသည်ဖားတို့ကိုငါ့နှင့်
ငါ့လူတို့ထံမှ ပယ်ရှားတော် မူမည် အကြောင်း

တောင်းပန်ထော့၊ ဣသရေလလူတို့သည်ထာဝ
ရဘုရားအား၊ ယဇ်ပူဇော်ရသောအခွင့်ကို ငါ
၉ ပေးမည်ဟု ဆို၏၊- မောရှေကလည်း၊ ကိုယ်
တော်နှင့် ကိုယ်တော်အိမ်များမှ ဖားတို့ကိုပယ်
ရှင်းဖျက်ဆီး၍၊ မြစ်၌သာနေစေခြင်းငှါ၊ကိုယ်
တော်နှင့်ကိုယ်တော်ကျွန်များ၊ လူများအဘို့အ
ကျွန်ုပ် တောင်းပန် ရသောအချိန်ကို ချိန်းချက်
၁၀ တော် မူပါဟု လျှောက် သော်၊- နက်ဖန် နေ့
တောင်း ပန် လော့ဟု မိန့်တော် မူသည် ဖြစ်၍၊
မောရှေက၊ အကျွန်ုပ်တို့ ဘုရားသခင် ထာဝရ
ဘုရားနှင့်တူသောဘုရားမရှိကြောင်းကို၊ကိုယ်
တော်သိစေခြင်းငှါအမိန့်တော်အတိုင်းဖြစ်၍၊-
၁၁ ဖားတို့သည် ကိုယ်တော်နှင့် ကိုယ်တော် အိမ်
များ၊ ကျွန်များ၊ လူများထံမှထွက်သွား၍၊မြစ်၌
သာ နေကြ လိမ့်မည်ဟု မောရှေ လျှောက် ပြီး
၁၂ လျှင်၊-အာရုန်နှင့်အတူအထံတော်မှထွက်သွား
၍၊ဖာရောဘုရင်အပေါ်သို့ထာဝရဘုရားဆောင်
တော်မူသော ဖားတို့ အကြောင်းကြောင့်၊ မော
၁၃ ရှေသည် ဆုတောင်းပဌနာပြုလေ၏၊- ထာဝရ
ဘုရားသည်၊ မောရှေ တောင်း လျှောက် သော
စကား အတိုင်းပြုတော်မူသဖြင့်၊ ဖားတို့သည်
အိမ်များ၊ ရွာများ၊ လယ်ပြင်များတို့တွင် သေ
၁၄ ကြ၏၊- အသေကောင်တို့ကိုစုပုံ၍ထားသဖြင့်၊
၁၅ တပြည်လုံးနံလေ၏၊- ဖာရောမင်းလည်း၊သက်
သာ ရကြောင်းကို သိမြင် သောအခါ၊ ထာဝရ
ဘုရားမိန့်တော်မူသည်အတိုင်း၊ နှစ်လုံး မိုင်မာ
၍၊ သူတို့ စကား ကို နား မထောင်ဘဲ နေ ပြန်
လေ၏။

၁၆ တဖန် ထာဝရဘုရားသည် မောရှေအားမိန့်
တော်မူသည်ကား၊အဲဂုတ္တုပြည်တရှောက်လုံး
၌ရှိသော မြေမှုန့်သည်၊ ခြင်ကောင်ဖြစ်စေခြင်း
ငှါ၊ အာရုန်သည်လှံတံကိုကိုင်လျက် လက်ကို
ဆန့်၍၊ မြေမှုန့်ကိုရိုက်စေခြင်းငှါ၊ ပြောထော့
၁၇ ဟုမိန့်တော်မူသည်အတိုင်း၊- အာရုန်သည်လှံ
တံကိုကိုင်လျက်လက်ကိုဆန့်၍၊မြေမှုန့်ကိုရိုက်
လေ၏၊မြေမှုန့်သည်လည်း၊ လူ၌၎င်း၊တိရစ္ဆာန်
၌၎င်း၊ ခြင်ကောင်ဖြစ်လေ၏၊ အဲဂုတ္တုပြည် တ
ရှောက် လုံး၌ မြေမှုန့် ရှိသမျှသည် ခြင်ကောင်
၁၈ ဖြစ်လေ၏၊-ဗိဇ္ဇာဆရာတို့လည်း၊ခြင်ကောင်တို့
ကိုဖြစ်စေခြင်းငှါ၊ ဗိဇ္ဇာအတတ်အားဖြင့်ထိုအ
တူပြု၍ မတတ်နိုင်ကြ၊ ထိုသို့ဖြစ်၍ လူတို့နှင့် တိ
၁၉ ရိစ္ဆာန်တို့၌၊ ခြင်ကောင်တို့သည် ရှိကြ၏၊- ထို
အခါ ဗိဇ္ဇာဆရာတို့က၊ ဤအမှုအရာသည်ဘုရားသ
ခင်၏တန်ခိုးကြောင့်ဖြစ်သည်ဟု၊ဖာရောဘုရင်
အားလျှောက်ကြားကြ၏၊ သို့သော်လည်း၊ထာ
ဝရဘုရားမိန့်တော်မူသည်အတိုင်း၊ ဖာရောဘု
ရင်သည်နှစ်လုံးမိုင်မာ၍၊ သူတို့စကားကိုနားမ
ထောင်ဘဲနေပြန်လေ၏။

၂၀ ထာဝရဘုရားကလည်း၊သင်သည်နံနက်စော
စောထလော့၊ ရေဆိပ်သို့ ထွက်သွားသော ဖာ
ရောဘုရင်ရှေ့မှာရပ်၍၊ ထာဝရဘုရားက၊ငါ၏
လူတို့သည်ငါ့အားဝတ်ပြုမည်အကြောင်း၊သူတို့
၂၁ ကိုလွှတ်လော့၊-မလွှတ်ဘဲနေလျှင်၊သင်နှင့်သင်
၏ကျွန်များ၊လူများ၊အိမ်များထဲသို့ယင်ရဲတို့ကို
ငါစေလွှတ်သဖြင့်၊ အဲဂုတ္တုလူတို့နေသောအိမ်၊
ရပ်သောမြေသည်၊ ယင်ရဲနှင့်အပြည့် ရှိရလိမ့်
၂၂ မည်၊- ငါသည် မြေကြီးအလယ်၌ ထာဝရဘု
ရားဖြစ်ကြောင်းကို သင်သိစေခြင်းငှါ၊ ငါ၏လူ
တို့နေရာ ဂေါရှင်ပြည်ကို ထိုနေ့၌ငါခြားနားစေ
၂၃ ၍၊ထိုပြည်၌ယင်ရဲ မရှိရ၊- ထိုသို့ငါ၏လူတို့နှင့်
သင်၏လူတို့ကိုငါခြားနားစေမည်၊နက်ဖန်နေ့၌
ထို နိမိတ် ထင်ရှား လိမ့် မည်ဟု၊ မိန့်တော် မူ
ကြောင်းကိုပြောလော့ဟု၊မောရှေအားမိန့်တော်
၂၄ မူ၏၊- ထိုသို့ထာဝရဘုရားပြုတော်မူသဖြင့်၊အ
လွန်ကြပ်းတမ်းသောယင်ရဲတို့သည်၊ ဖာရော
ဘုရင်အိမ်အစရှိသော၊ သူ၏ကျွန်တို့အိမ်၊ အဲ
ဂုတ္တုပြည် တရှောက်လုံး၌ရောက်လာ၍၊ ထို
ယင်ရဲတို့ကြောင့်အဲဂုတ္တုပြည်ပျက်လေ၏။

၂၅ ထိုအခါ၊ ဖာရောဘုရင်သည် မောရှေနှင့်အာ
ရုန်ကိုခေါ်ပြီးလျှင်၊သင်တို့သည်ဤပြည်၌၊သင်
တို့၏ ဘုရားသခင်အား ယဇ်ပူဇော် သွားကြ
၂၆ လော့ဟုမိန့်တော်မူသော်၊- မောရှေက၊ထိုသို့မ
ပြုသင့်၊ပြုလျှင်အဲဂုတ္တုလူတို့၏ရွံရှာဘွယ်သော
အရာ ကို၊ အကျွန်ုပ်တို့ ဘုရား သခင် ထာဝရ
ဘုရားအားယဇ်ပူဇော်ရပါမည်၊ အဲဂုတ္တုလူတို့
၏ရွံရှာဘွယ်သောအရာကို၊ သူတို့မျက်မှောက်
၌ယဇ်ပူဇော်လျှင်၊သူတို့သည်အကျွန်ုပ်တို့ကိုခဲ
၂၇ နှင့်ပစ်ကြပါလိမ့်မည်မဟုတ်လော၊-သို့ဖြစ်၍
တော၌သုံးရက်ခရီးသွား၍၊အကျွန်ုပ်တို့ဘုရား
သခင် ထာဝရဘုရား မိန့်တော်မူသည် အတိုင်း၊
၂၈ ယဇ်ပူဇော်ကြပါမည်ဟု လျှောက်ဆို၏၊- ဖာ
ရောဘုရင်ကလည်း၊သင်တို့၏ဘုရားသခင်၊ထာ
ဝရ ဘုရားအား၊ တော၌ ယဇ်ပူဇော်မည် အ
ကြောင်း၊သွားရသောအခွင့်ကိုငါပေးမည်၊ ထို

ရာထွက်စေဝေးစေမှာရအကြောင်းအခွင့်တောင်းပန်
၂၉ ထော့ဟုမိန့်တော်မူ၏။— မောရှေကလည်း၊ အ
ကျွန်ုပ်သည် ကိုယ်တော်ထံမှ ထွက်သွား၍၊
ယင်္ကဲ ယင်မ ယင်ကောင်တို့သည်ဖာရောဘုရင်နှင့်၊ ကျွန်များ၊
လူများထံမှ၊ နက်ဖြန်နေ့ထွက်သွားမည်အကြောင်း၊
ထာဝရဘုရားကို တောင်းပန်ပါမည်။ ထိုရာ
ထွက်ရအသရေထလူတို့သည် ထာဝရဘုရားအား
ယဇ်မပူဇော်ရမည်အကြောင်း၊ နောက်တဖန်
ဆီးတား၍၊ လှည့်စားတော်မမူပါနှင့်ဟု
၃၀ လျှောက်ပြီးလျှင်၊— ဖာရောဘုရင်ထံမှ ထွက်
သွား၍၊ ထာဝရဘုရားကိုတောင်းပန်လေ၏။—
၃၁ ထာဝရဘုရားသည်လည်း၊ မောရှေစကားကို
နားထောင်၍၊ ယင်ရဲတို့ကိုဖာရောဘုရင်နှင့်သူ
၏ကျွန်များ၊လူများထံမှတကောင်မျှမကျန်စေ
၃၂ ခြင်းငှါပယ်ရှားတော်မူ၏။— ထိုအခါ၌လည်း၊
ဖာရောဘုရင်တို့နှစ်လုံးမိုင်မာပြန်၍၊ ရှုအသရေ
ထလူတို့ကိုမလွှတ်ဘဲနေလေ၏။

## ၉

၁ ထာဝရဘုရားကလည်း၊ သင်သည်ဖာရော
ဘုရင်ထံသို့ဝင်၍၊ ငါ၏လူတို့သည်ငါ့အားဝတ်
၂ ပြုမည်အကြောင်း၊ သူတို့ကိုလွှတ်လော့။— မလွှတ်
၃ ဘဲတုငြင်း၍ ဆီးတားသေးလျှင်၊— ထာဝရ
ဘုရား၏လက်တော်သည်၊ လယ်ပြင်၌ရှိသော
တိရစ္ဆာန်၊ မြင်း၊ မြည်း၊ ကုလားအုတ်၊ ထိုး၊ နွားတို့
အပေါ်၌ရောက်၍၊ အလွန်ပြင်းစွာသော ရော
၄ ဂါနှိပ်စက်မည်။— ထာဝရဘုရားသည်၊ ဣသရေ
လလူတို့၏ တိရစ္ဆာန်နှင့်၊ အဲဂုတ္တုလူတို့၏ တိ
ရစ္ဆာန်ကို ခြားနားစေသဖြင့်၊ ဣသရေလ အ
မျိုးသားပိုင်သော တိရစ္ဆာန် တကောင်မျှ မ
၅ သေရ။— နက်ဖြန်နေ့၊ အဲဂုတ္တုပြည်၌ထိုအမှုကို
ထာဝရဘုရား ပြုတော်မူမည်ဟု၊ ဓနသော အ
ချိန်ကိုချိန်းချက်တော်မူပြီဟု၊ ဟေဗြဲလူတို့၏ဘု
ရားသခင် ထာဝရဘုရား မိန့်တော်မူသည် အ
ကြောင်းကိုပြောလော့ဟုမောရှေအားမိန့်တော်
၆ မူ၏။— နက်ဖြန်နေ့၌ထိုအမှုကိုပြုတော်မူသဖြင့်၊
အဲဂုတ္တုလူတို့၏ တိရစ္ဆာန်အမျိုးမျိုးသေကြ၏။
ဣသရေလလူတို့၏ တိရစ္ဆာန် တကောင်မျှမ
၇ သေ။— ဖာရောဘုရင်သည်လူကိုစေလွှတ်၍၊ ဣ
သရေလအမျိုးသားတို့၏တိရစ္ဆာန်တကောင်မျှ
မသေကြောင်းကိုသိရ၏။ ထိုသော်လည်း၊ နှစ်
လုံးမိုင်မာပြန်၍၊ ဣသရေလလူတို့ကိုမလွှတ်ဘဲ
နေလေ၏။

ထာဝရဘုရားကလည်း၊ မီးဖိုထဲက ပြာကို
လက်နှင့်ယူ၍၊ မောရှေသည်ဖာရောဘုရင်ရှေ့၌
၉ မိုဃ်းကောင်းကင်သို့ပြစ်လွှင့်စေ။— ထိုပြာသည်
အဲဂုတ္တုပြည် တရှောက်လုံး၌ နှံ့ပြားသော အ
မှုန်ဖြစ်၍၊ ပြည်တရှောက်လုံးတွင်၊ လူနှင့်တိ
ရစ္ဆာန်တို့၌၊ အဖုအကျိတ်ပြည့်သော အနာဆိုး
ဖြစ်လိမ့်မည်ဟု၊ မောရှေနှင့်အာရုန်တို့အားမိန့်
၁၀ တော်မူသည်အတိုင်း၊— သူတို့သည်မီးဖိုထဲက
ပြာကိုယူ၍၊ ဖာရောဘုရင်ရှေ့မှာ ရပ်လျက်၊
မောရှေသည်မိုဃ်းကောင်းကင်သို့ပြစ်လွှင့်သ
ဖြင့်၊ ထိုပြာသည်လူနှင့်တိရစ္ဆာန်တို့၌ အဖုအ
၁၁ ကျိတ်ပြည့်သောအနာဆိုးဖြစ်လေ၏။—မှော်ဆ
ရာတို့သည်အနာဆိုးကြောင့်၊မောရှေရှေ့၌မရပ်
မနေနိုင်၊ ထိုအနာဆိုးသည်မှော်ဆရာတို့၌၎င်း၊
၁၂ အဲဂုတ္တုလူအပေါင်းတို့၌၎င်းစွဲသတည်း။— ထာ
ဝရဘုရားသည် ဖာရောဘုရင်၏ နှလုံးကို မိုင်
မာစေတော်မူသည်ဖြစ်၍၊ မောရှေအားမိန့်တော်
မူသည်အတိုင်း၊ သူတို့စကားကိုနားမထောင်ဘဲ
နေလေ၏။

၁၃ တဖန်ထာဝရဘုရားက၊ နံနက်စောစောထ၍၊
ဖာရောဘုရင်ရှေ့မှာ ရပ်လျက်၊ ဟေဗြဲလူတို့၏
ဘုရားသခင်ထာဝရဘုရားက၊ ငါ၏လူတို့သည်
ငါ့အားဝတ်ပြုမည်အကြောင်း၊ သွားရသောအ
၁၄ ခွင့်ကိုပေးလော့။— သို့မဟုတ်၊ ယခုကာလအခါ
သင်၏နှလုံး၌၎င်း၊ သင်၏ကျွန်များ၊ လူများ၌
၎င်း၊ ငါ၏ဘေးဒဏ် အလုံးစုံတို့ကို သင့်ရောက်
စေမည်။ မြေကြီးတရှောက်လုံး၌ ငါကဲ့သို့သော
သူမရှိကြောင်းကို သင်သည် သိရလိမ့်မည်။—
၁၅ ယခုငါသည်လက်ကိုဆန့်၍၊ သင်နှင့်သင်၏လူတို့ကိုကာ
လနာဖြင့်ဒဏ်ခတ်မည်၊ သင့်ကိုလည်းမြေကြီး
၁၆ ပေါ်ကသုတ်သင်ပယ်ရှင်းမည်။— အကယ်စင်
စစ်ငတန်ခိုးကိုသင်၌ငါပြခြင်းငှါ၎င်း၊ ငါ့နာမကို
မြေကြီးတပြင်လုံးတွင်၊ကျော်စောစေခြင်းငှါ၎င်း၊
၁၇ သင့်ကိုငါမြှောက်ခဲ့ပြီ။—သင်သည်ငါ၏လူတို့
ကိုမလွှတ်ဘဲ၊ သူတို့ကိုစော်ကားသေးသလော။—
၁၈ ကြည့်ရှုလော့၊ အဲဂုတ္တုပြည်တည်သည်ကာလ
မှစ၍ ယခုတိုင်အောင် မရွာဘူးသော၊ အလွန်
ကြီးစွာသောမိုဃ်းသီးရွာခြင်းကို၊ နက်ဖြန်နေ့
၁၉ ဤအချိန်၌ ငါဖြစ်စေမည်။— ထိုကြောင့်ယခုစေ
လွှတ်၍၊ လယ်ပြင်၌ရှိသောတိရစ္ဆာန်များနှင့်၊
ရှိသမျှတို့ကို သိမ်းယူလော့။ အိမ်သို့မ
ဆောင်လျှင်၊ လယ်ပြင်၌တွေ့သမျှသော လူနှင့်

တိရိစ္ဆာန်တို့ အပေါ်မှာ မိုဃ်းသီးကျ၍၊ သူတို့သည် သေကြလိမ့်မည်အကြောင်းကိုပြောလော့
၂၀ ဟု၊ မောရှေအားမိန့်တော်မူ၏။– ထာဝရဘုရား၏ နှုတ်ကပတ်တော်ကိုကြောက်ရွံ့သောဖာရော
ဘုရင်၏ကျွန်တို့သည်၊ မိမိကျွန်နှင့်မိမိတိရိစ္ဆာန်
၂၁ တို့ကို၊ အိမ်သို့ပြေးစေကြ၏။– ထာဝရဘုရား၏ နှုတ် ကပတ်တော်ကို ပမာဏမပြုသော သူတို့သည်၊ မိမိကျွန်၊ မိမိတိရိစ္ဆာန်တို့ကိုထယ်ပြင်၌ ထားကြ၏။
၂၂ ထာဝရ ဘုရား ကလည်း၊ အဲဂုတ္တုပြည် တရှောက်လုံး၌လူတို့အပေါ်မှာငှင်၊ တိရိစ္ဆာန်တို့ အပေါ်မှာငှင်၊ ထယ်ပြင်၌ရှိသေသမျှသောအ ပင်များအပေါ်မှာငှင် မိုဃ်းသီး ရွာစေခြင်းငှါ၊ သင်၏လက်ကို မိုဃ်းကောင်းကင်သို့ဆန့်လော့
၂၃ ဟု၊ မောရှေအားမိန့်တော်မူ၏။– မောရှေသည် မိမိလှံတံကိုမိုဃ်းကောင်းကင်သို့ဆန့်၍၊ ထာဝရဘုရားသည် မိုဃ်းကြိုးနှင့် မိုဃ်းသီးကိုလွှတ် တော်မူ၏၊ မီးသည်လည်းမြေပေါ်မှာ ပြေးလေ ၏၊ ထိုသို့ထာဝရဘုရားသည်၊ အဲဂုတ္တုပြည်၌
၂၄ မိုဃ်းသီး ရွာစေတော်မူသဖြင့်၊– အဲဂုတ္တုပြည် တည်ထောင်သည် ကာလမှစ၍၊ တခါမျှမဖြစ် ဘူးသောမိုဃ်းသီး၊ မီးနှင့်ရော၍ အလွန် ပြင်း
၂၅ ထန်ရွာသော မိုဃ်းသီး ဖြစ်လေ၏။– အဲဂုတ္တု ပြည်တရှောက်လုံး၌၊လယ်ပြင်မှာရှိသမျှသော လူနှင့်တိရိစ္ဆာန်များ၊မြက်ပင်များ၊သစ်ပင်များ
၂၆ တို့ကိုမိုဃ်းသီးထိလေ၏။– သို့ရာတွင်ဣသရေ လအမျိုးသားနေရာ ဂေါရှင်ပြည်၌၊ မိုဃ်းသီး မကျမရွာ။
၂၇ ထိုအခါဖာရောဘုရင်သည်လူကိုစေလွှတ်၍၊ မောရှေနှင့်အာရုန်ကိုခေါ်ပြီးလျှင်၊ဤအမှု၌ငါ ပြစ်မှားပြီ၊ ထာဝရဘုရားသည်ဖြောင့်မတ်တော် မူ၏၊ ငါနှင့်ငါ၏လူတို့သည် အပြစ်များ ပါ၏။–
၂၈ တန်ပါပြီ၊ အားကြီးသောမိုဃ်းကြိုးနှင့် မိုဃ်း သီးစဲမည်အကြောင်း၊ ထာဝရဘုရားကိုတောင်း ပန်ပါ၊သင်တို့ကိုငါမဆီးမတား၊ အလျှင်အမြန်
၂၉ လွှတ်မည်ဟုဆိုသော်၏။–မောရှေကလည်း၊ မြို့ထဲ ကထွက်၍ပ်ထွက်သွားသောအခါ၊ ထာဝရဘုရား ရှေ့တော်၌ လက်ဝါးတို့ကို ဖြန့်ပါမည်၊ ထာဝရဘုရားသည် မြေကြီးကို အစိုးရတော်မူ ကြောင်း ကို ကိုယ်တော် သိစေ ခြင်းငှါ၊ မိုဃ်း ကြိုးစဲလိမ့်မည်၊မိုဃ်းသီးလည်းမကျမ ရွာရ။–
၃၀ သို့သော် လည်း၊ ကိုယ်တော်နှင့် ကိုယ်တော်၏ ကျွန်တို့သည်၊ ထာဝရအရှင် ဘုရားသခင်ကိုမ ကြောက် သေးကြောင်းကို၊ ကျွန်ုပ် သိပါသည်။
၃၁ ထိုလျှောက် ဆို၏။–ပိုက်ဆန်ပင်၊ မုယောပင်ကို မိုဃ်းသီးထိ၏၊ မုယောပင်သည်အသီးအနှံ နှင့်
၃၂ ပြည့်စုံပြီ၊ပိုက်ဆန်ပင်သည်းအသီးမှည့်ပြီ။– ဂျုံ စပါး၊ ကောက်စပါးပင်ကိုကား မထိ၊ ထိုအပင်
၃၃ တို့သည် မပေါက်ကြသေး။– မောရှေသည် ဖာ ရောဘုရင်ထံမှထွက်၍၊ မြို့ပြင်သို့သွားပြီးလျှင်၊ ထာဝရ ဘုရားရှေ့တော်၌ လက်ဝါးတို့ကို ဖြန့် သဖြင့်၊ မိုဃ်းကြိုးနှင့် မိုဃ်းသီးစဲလေ၏၊ မြေ
၃၄ ပေါ်၌သည်း မိုဃ်းမရွာ။– ထိုသို့မိုဃ်းမရွာ ၍၊ မိုဃ်းသီးနှင့် မိုဃ်းကြိုးစဲသည်ကို ဖာရော ဘုရင်မြင်လျှင်၊ တဖန်ပြစ်မှား၍၊ ကျွန်များနှင့်
၃၅ တကွ နှစ်လုံးခိုင်မာလျက်နေ၏။– ထိုသို့ဖာရော ဘုရင်သည်နှစ်လုံးခိုင်မာသည်ဖြစ်၍၊ မောရှေ ၌ထာဝရဘုရားမိန့်တော်မူသည်အတိုင်း၊ ဣသ ရေလ အမျိုးသား တို့ကို မလွှတ်ဘဲ နေမြဲနေ သတည်း။

၁၀

၁ တဖန်ထာဝရဘုရားက၊ သင်သည်ဖာရောဘု ရင်ထံသို့ ဝင်လော့၊ ငါသည် ဤနိမိတ်တို့ကိုဆို
၂ ရွေ့၌ပြခြင်းငှါငှင်၊–အဲဂုတ္တုပြည်၌ငါပြုသောအ မှု၊ အဲဂုတ္တုလူတို့တွင် ငါပြသော နိမိတ်တို့ကို၊ သင်၏ သားမြေးတို့အား ကြားပြောသဖြင့်၊ ငါ သည် ထာဝရဘုရားဖြစ်ကြောင်းကို သင်တို့သိ စေခြင်းငှါငှင်၊သူ၏နှစ်လုံး၊သူ၏ကျွန်တို့နှစ်လုံး ကိုငါခိုင်မာစေပြီဟု၊ မောရှေအား မိန့်တော်မူ
၃ ၏။– မောရှေနှင့်အာရုန်တို့သည်၊ဖာရောဘုရင် ထံသို့ဝင်ပြီးလျှင်၊ ဟေဗြဲလူတို့၏ ဘုရားသခင် ထာဝရဘုရားက၊ သင်သည်ရှေ့မှာ ကိုယ်ကို ကိုယ်မနှိမ့်ချဘဲ၊ အဘယ်မျှကာလပတ်လုံးနေ လိမ့်မည်နည်း။ ငါ၏ လူတို့သည်အားဝတ်ပြု မည် အကြောင်း၊ သွားရသော အခွင့်ကို ပေး
၄ လော့။– သို့မဟုတ်၊ ငါ၏လူတို့ကို မလွှတ်ဘဲနေ လျှင်၊ကြည့်ရှုလော့၊ ကျိုင်းကောင်တို့ကို သင်၏
၅ ပြည်သို့ နက်ဖန် ငါဆောင်ခဲ့မည်။– မြေ မထင် ပေါ် နိုင်အောင်သူတို့သည်၊ မြေမျက်နှာကိုဖုံး အုပ်ကြလိမ့်မည်၊ မိုဃ်းသီးမဖျက်၊သင်တို့၌ ကျန်ကြွင်းသေးသမျှကိုငှင်၊ သင်တို့အဖို့ မြေ၌ ပေါက် သမျှသော အပင်တို့ကိုငှင် စားကြလိမ့်
၆ မည်။– သင်၏အိုးအိမ်တို့သည်မြေပေါ်မှာ ဖြစ် သည်ကာလမှစ၍၊ ယနေ့တိုင်အောင်မမြင်ဘူး

အဆဲ့ထို့၊ အဝိဏ်မိမိစီရှား၊ အဝိဏ်ကျွန်ထိုးမိမိ
ရှား၊ အဲဂုတ္တုလူအပေါင်းတို့၏မိမိရှား၊ တို့ကို
မြည့် ပြည်စိမ့်မည်ဟု ဆိုပြီးလျှင်၊ ဖာရှို့၏ စ
ရောဘုရင်ထံမှထွက်သွားလေ၏။
၇ စရောဘုရင်၏ကျွန်တို့ကလည်း၊ ဤလူသည်
ငါတို့ကို အဘယ်မျှလောက်ပတ်လုံး ကျော့ကွင်း
ဖြစ်စိမ့်မည်နည်း၊ ထိုသူတို့သည်သူတို့၏ဘုရား
သခင် ထာဝရ ဘုရား အား ဝတ်ပြုမည် အ
ကြောင်း၊ အခွင့်ပေးတော်မူပါ။ အဲဂုတ္တု ပြည်
ပျက်ကြောင်းကို သိတော်မမူသေး လောဟု
၈ လျှောက်ကြလျှင်၊-မောရှေနှင့်အာရုန်ကိုတဖန်
စရောဘုရင်ထံသို့သွင်းပြန်၍၊သင်တို့၏ဘုရား
သခင် ထာဝရဘုရားအား ဝတ်ပြုခြင်းငှါ သွား
ကြလော့၊ ထိုရာတွင် သွားရသော သူတို့သည်
၉ အဘယ်သူနည်းဟုမေးလျှင်၊- မောရှေက၊ အ
ကျွန်ုပ်တို့သည်၊ လူငယ်၊ သူအို၊ သားသမီး၊ သိုး၊
နွားပါလျက်သွားပါမည်၊ အကြောင်းမူကား၊
ထာဝရ ဘုရားရှေ့တော်၌ ပွဲခံရပါမည်ဟု ပြန်
၁၀ ဆိုလေသော်၊-စရောမင်းကလည်း သင်တို့နှင့်လူငယ်
ရှားကို ငါလွှတ်သည်အတိုင်း၊ ထာဝရဘုရား
သည်သင်တို့၌ရှိစေသော၊ သတိပြု၊ မကောင်း
၁၁ သောအကြံကို ကြံကြသည်တကား၊- ထိုသို့မ
ဖြစ်ရ၊ အရင်တောင်းလျှောက်သည့်အတိုင်း၊
ယောကျ်ားဖြစ်သောသူတို့သာသွား၍၊ ထာဝရ
ဘုရားအားဝတ်ပြုကြဟုမိန့်တော်မူသဖြင့်၊ သူ
တို့ကိုအထံတော်မှနှင်ကြလေ၏။
၁၂ ထာဝရ ဘုရား ကလည်း၊ ကျိုင်း တို့သည် အဲ
ဂုတ္တုပြည်သို့ ရောက်လာ၍ မိုဃ်းသီး မဖျက်၊
မြေပေါ်မှာ ကျန်ရစ်သော အပင်ရှိသမျှ တို့ကို
စားစေခြင်းငှါ၊ အဲဂုတ္တုပြည်အပေါ်မှာ သင်
ကိုဆန့်လော့ဟု၊ မောရှေအားမိန့်တော်မူသည်
၁၃ အတိုင်း၊- မောရှေသည် မိမိလှံတံကို အဲဂုတ္တု
ပြည်အပေါ်မှာ ဆန့်သဖြင့်၊ တိုနေ့နှင့်တိုညဉ့်
ပတ် လုံး၊ အရှေ့ လေကို မြေပေါ်မှာ ထာ ဝ ရ
ဘုရား လာစေတော်မူ၍၊ နံနက်ရောက်မှ အရှေ့
၁၄ လေသည်ကျိုင်းတို့ကိုဆောင်ခဲ့လေ၏၊- ထိုကျိုင်း
တို့သည် အဲဂုတ္တုပြည်လုံးကိုတွမ်းမိုး၍၊ ပြည်
နယ်ရှိသမျှအပေါ်မှာနားသဖြင့်၊ အထွန်
ရှားပြား၏၊ ထိုသို့သောကျိုင်းတို့သည်ရှေးက
၁၅ မဖြစ်စဖူး၊နောက်၌လည်းမဖြစ်ရလတံ့၊- မြေ
မျက်နှာသည်မိုက်မှောင်ခြင်းသို့ ကျိုင်းတို့သည်ဖုံးအုပ်
၍၊ အပြည်လုံးတွင်မြေ၌ပေါက်သမျှ၊ မိုဃ်းသီး

နှင့်လွတ်သောသစ်သီးရှိသမျှကို စားကြသဖြင့်၊
အဲဂုတ္တုပြည် တရှောက်လုံးတွင် သစ်ပင်မြက်
ပင်တို့၌စိမ်းသောအရာတစုံတခုမျှမကျန်ရစ်။
၁၆ ထိုအခါ စရောဘုရင်သည် မောရှေနှင့်အာ
ရုန်ကိုအလျင်အမြန်ခေါ်၍၊သင်တို့၏ဘုရားသ
ခင် ထာဝရဘုရားကိုရင်၊ သင်တို့ကိုရင် ငါပြစ်
၁၇ မှားပါပြီ၊-ယခုဖြစ်၍ဤတခါငါအပြစ်ကိုလွှတ်
ပါလော့၊သင်တို့၏ဘုရားသခင်ထာဝရဘုရား
သည်၊ ဤသေဘေးတခုကိုသာ ငါ့မှပယ်ရှားပါ
စည် အကြောင်း၊ တောင်းပန်ပါလော့ ဆိုသည်ရှိ
၁၈ သော်၊-မောရှေသည်အထံတော်မှထွက်၍၊ထာ
၁၉ ဝရ ဘုရား ကို တောင်းပန် လေ၏၊- ထာဝရ
ဘုရားသည်၊ အားကြီးသော အနောက် လေကို
လွှတ်တော် မူသဖြင့်၊ ထိုလေသည် ကျိုင်းတို့ကို
ဆောင်သွား၍ ဧဠုပင်ထယ်၌ ချပြစ်လေ၏၊ အဲ
ဂုတ္တုပြည်တရှောက်လုံး၌ ကျိုင်းတကောင်မျှမ
၂၀ ကျန်ရစ်၊- သို့သော်လည်း၊ထာဝရဘုရားသည်
စရောဘုရင်၏ နှလုံးကိုခိုင်မာစေတော် မူသ
ဖြင့်၊ သူသည် ဣသရေလ အမျိုးသားတို့ကို မ
လွှတ်ဘဲနေပြန်လေ၏။
၂၁ တဖန် ထာဝရ ဘုရား က၊ အဲဂုတ္တုပြည် တ
ရှောက်လုံး၌၊ မှောင်မိုက်သာမဟုတ်၊စမ်း
သပ်၍ တွေ့ရသော မှောင်မိုက် ဖြစ်စေခြင်းငှါ၊
သင်၏လက်ကိုမိုဃ်းကောင်းကင်သို့ဆန့်လော့
၂၂ ဟု၊မောရှေအားမိန့်တော်မူသည်အတိုင်း၊-မော
ရှေသည်မိမိလက်ကိုမိုဃ်းကောင်းကင်သို့ဆန့်
၍၊ အဲဂုတ္တုပြည်တရှောက်လုံး၌ထူထပ်သော
မှောင်မိုက်သည်၊ သုံးရက်ပတ်လုံးဖြစ်လေ၏၊-
၂၃ ထိုအခါတယောက်ကိုတယောက်မမြင်နိုင်ကြ၊
သုံးရက်ပတ်လုံးအဘယ်သူမျှ မိမိနေရာမှမထရ
ကြ၊ ထိုရာတွင်ဣသရေလအမျိုးသားအပေါင်း
တို့သည်၊မိမိတို့နေရာ၌အလင်းကိုရကြ၏။
၂၄ ထိုအခါ စရောဘုရင်သည် မောရှေနှင့်အာ
ရုန်ကိုခေါ်၍၊ ထာဝရဘုရားအား ဝတ်ပြုခြင်း
ငှါသွားကြလော့၊ ထိုရာတွင် သိုး နွား ရှားကို
ထားခဲ့ကြစေ၊ လူငယ်ရှားကိုခေါ်ကြစေဟု မိန့်
၂၅ တော်မူ၏၊- မောရှေကလည်း၊ ကျွန်ုပ်တို့ဘုရား
သခင် ထာဝရဘုရားအား ယဇ်ပူဇော်စရာတို့၊
ယဇ်ကောင်ရှား၊ မီးရှို့ရာပူဇော်သက္ကာရှားကို
၂၆ ကိုယ်တော် ပေးရမည်၊- ကျွန်ုပ်တို့သည် တိ
ရစ္ဆာန်ရှားကိုဆောင်သွားရမည်၊ တကောင်မျှ
မကျန်ရစ်ရ၊ အကြောင်းမူကား၊ သူတို့အထဲက

ကျွန်ုပ်တို့ဘုရားသခင် ထာဝရဘုရားအား ဝတ်
ပြုစရာဆိုင်းရွေးယူရမည်။ ထာဝရဘုရားအားအ
ဘယ် မည်သောအကောင်နှင့် ဝတ်ပြုရမည်ကို၊
ထိုအရပ်သို့မရောက်မှီမသိပါဟုဆိုလေသော်၊-
၂၇ ထာဝရဘုရားသည် ဖာရောဘုရင်၏ နှစ်လုံးကို
ခိုင်မာစေတော်မူသဖြင့်၊ သူသည်ဣသရေလအ
၂၈ မျိုးသားတို့ကိုမလွှတ်။- မောရှေကိုလည်း၊ ငါ့ထံ
မှထွက်သွားလော့၊ နောက်တဖန်ငါ့မျက်နှာကို
မမြင်အောင် သတိပြုလော့၊ ငါ့မျက်နှာကို မြင်
၂၉ သောနေ့၌ သေမည်ဟုမိန့်တော်မူ၏။- မောရှေ
ကလည်း၊ မိန့်တော်မူချက်သည်လျောက်ပတ်ပါ
၏၊ မျက်နှာတော်ကို နောက်တဖန် မမြင်ပါဟု
လျှောက်ဆို၏။

၁၁

၁ ထိုအခါ၊ ထာဝရဘုရားက၊ ဖာရော ဘုရင်နှင့်
အဲဂုတ္တုပြည်အပေါ်မှာ ဘေးတပါးကိုငါရောက်
စေဦးမည်။ ထိုနောက်သင်တို့ကိုလွှတ်လိမ့်မည်။
လွှတ်သော အခါ၌ လည်း၊ အကယ်၍ သင်တို့
၂ ကို ထပြိုင်နှင် နှင်လိမ့်မည်။- ဣသရေလ လူ
ယောက်ျားသည်၊ အိမ်နီးချင်းယောက်ျား၌၎င်း၊
မိန်းမသည်အိမ်နီးချင်းမိန်းမ၌၎င်း၊ ငွေတန်ဆာ၊ ရွှေ
တန်ဆာ၊ အဝတ်တန်ဆာတို့ကိုတောင်းစေခြင်း
၄ါ၊ လူများတို့အားပြောလော့ဟု၊ မောရှေအား
၃ မိန့်တော်မူ၏။- သူတို့တောင်းသည်အတိုင်း၊ အဲ
ဂုတ္တုလူတို့သည် ပေးချင်သော စေတနာစိတ်ကို
ထာဝရဘုရား ဖြစ်စေတော်မူ၏။ မောရှေသည်
လည်း၊ အဲဂုတ္တု ပြည် တွင် ဖာရော ဘုရင် ၏
ကျွန်များ၊ လူများရှေ့၌ ကြီးမြတ်သော အသရေ
ရှိလေ၏။

၄ ထိုအခါမောရှေက၊ ထာဝရဘုရားမိန့်တော်
မူသည်ကား၊ သန်းခေါင်အချိန်၌အဲဂုတ္တုပြည်
၅ အလယ်သို့ငါထွက်သွားမည်။- နန်းထိုင်သော
ဖာရောဘုရင်၏ သားဦးမှစ၍၊ ကြိတ်ဆုံနောက်
၌ ထိုင်သော ကျွန်မ၏ သားဦးတိုင်အောင်၊ အဲ
ဂုတ္တု ပြည်၌ ရှိသမျှသော သားဦး တို့နှင့်၊ တိ
ရိစ္ဆာန်တို့၏သားဦးရှိသမျှတို့သည်သေကြလိမ့်
၆ မည်။- အဲဂုတ္တုပြည်တရှောက်လုံးတွင်၊ ရှေး
ကာလ၌မဖြစ်စဘူး၊ နောင်ကာလ၌လည်းမဖြစ်
ထတုံသော ကြီးစွာသောငိုကြွေးခြင်းဖြစ်ရလိမ့်
၇ မည်။- သို့ရာတွင်ထာဝရဘုရားသည်၊ အဲဂုတ္တု
လူတို့နှင့် ဣသရေလလူတို့ကို ခြားနားစေတော်
မူကြောင်းကိုသင်တို့သိစေခြင်းငှါ၊ ဣသရေလ
လူတစုံတယောက်ကိုခွေးတကောင်မျှမထိ်န်းရ
၈ ထုမိန့်တော်မူ၏။- ကိုယ်တော်၏ကျွန်ဖြစ်သော
ဤလူအပေါင်းတို့သည်လည်း၊ ကျွန်ုပ်ထံသို့ဆ
င်း၍၊ ပြစ်ဝပ်လျက်ထွက်သွားပါ။ ကိုယ်တော်နှင့်
ကိုယ်တော်နောက်၌ လိုက်သောသူအပေါင်းတို့
ထွက်သွားကြပါဟုပြောဆိုပြီးမှ၊ ကျွန်ုပ်ထွက်
သွားပါမည် ဟု လျှောက်ဆို သဖြင့်၊ အမျက်
ထွက်၍ဖာရောဘုရင်ထံမှထွက်သွားလေ၏။
၉ ထာဝရဘုရားကလည်း၊ အံ့ဘွယ်သောအမှု
တော်တို့သည် အဲဂုတ္တုပြည်၌များပြားမည်အ
ကြောင်း၊ ဖာရောဘုရင်သည်သင်တို့၏စကားကို
နားမထောင်ဘဲ နေလိမ့်မည်ဟု၊ မောရှေ အား
၁၀ မိန့်တော်မူသည်အတိုင်း၊- မောရှေနှင့် အာရုန်
တို့သည်ဖာရောဘုရင်ရှေ့မှာ၊ ဤအံ့ဘွယ်သော
အမှု အလုံးစုံ တို့ကို ပြုသော် လည်း၊ ထာ ဝရ
ဘုရားသည်ဖာရောဘုရင်၏နှစ်လုံးကိုခိုင်မာစေ
တော်မူ သဖြင့်၊ ဣ သရေလ အ မျိုးသား တို့ကို
ပြည်တော်မှ ထွက်သွားရသောအခွင့်ကို မပေး
ဘဲနေသတည်း။

၁၂

၁ ထာဝရဘုရားသည်အဲဂုတ္တုပြည်၌၊ မောရှေ
နှင့်အာရုန်တို့အားမိန့်တော်မူသည်ကား။- ဤ
လသည် သင်တို့၌လဦးတည်းဟူသောနှစ်စည်
၃ တွင်ပဌမလဖြစ်ရမည်။-သင်တို့သည်ဣသရေလ
အမျိုးပရိသတ်အပေါင်းတို့ကို မှာထားရသော
စကားဟူမူကား၊ ဤလဆယ်ရက်နေ့၌သင်တို့ရှိ
သမျှသည်၊ မိမိအိမ်ထောင်အသီးအသီးအတိုင်း
တအိမ်ထောင်လျှင် သိုးသငယ် တကောင်စီယူ
၄ ရမည်။-အိမ်ထောင်ငယ်၍သိုးသငယ်တကောင်
နှင့်မတန်လျှင်၊ နီးစပ်သောအိမ်နီးချင်း နှင့်စပ်
စက်၍၊ လူမည်မျှရှိသည်ဟု ရေတွက်ပြီးလျှင်၊
တ ကောင် ကို စား လောက် သော သူ များ ကို
ထောက်၍၊ သိုးသငယ်တကောင်ကိုယူရမည်။-
သိုးသငယ်ဖြစ်စေ၊ ဆိတ်သငယ်ဖြစ်စေ၊ သင်တို့
ယူသောအကောင်သည်အပြစ်မပါ၊ အခါမလည်
၆ သော အထီးဖြစ်ရမည်။- ထိုသိုး သငယ် တို့ကို၊
ထိုလဆယ်လေးရက်တိုင်အောင်စောင့်ထားပြီး
မှ၊ ညဦး၊ အချိန်၌၊ ဣသရေလ အမျိုးအစည်းအ
ဝေး ပရိသတ် အပေါင်း တို့သည် သတ်ရကြ
၇ မည်။-သိုးသငယ်၏အသားကိုစားရသောအိမ်
၏တံခါးထုပ်နှင့် တံခါးတိုင် နှစ်စက်၌၊ သိုးသ
၈ ငယ်၏အသွေးကိုယူ၍ထိုးရမည်။- အသားကို

မီးနှင့်ကင်ပြီးမှ၊ ထိုညည့်ချင်းတွင် တဆေးမပါ
သောမုန့်၊ ခါးသောတင်းဆီးဟင်း ရွက်နှင့်စား
၉ ရမည်။– အသားစိမ်းသည်ဖြစ်စေ၊ရေနှင့်ပြုတ်
သည်ဖြစ်စေမစားရ။ ခေါင်း၊ ခြေထောက်၊ အ
သည်း၊ နှစ်လုံးစသည် တို့နှင့်တကွ၊ မီးကင်ပြီး
၁၀ မှစားရမည်။– နံနက်တိုင်အောင် ထိုအသားကို
မကြွင်းစေရ။ အနည်းငယ် ကြွင်းလျှင်၊ မီးနှင့်
၁၁ ရှို့ရမည်။– အဘယ်သို့ စားရ မည်နည်း ဟူ မူ
ကား၊ ခါးစည်းကို စည်းလျက်၊ ခြေနင်းကို စီး
လျက်၊တောင်ဝှေးကိုကိုင်လျက်၊အလျင်အမြန်
စား ရမည်။ ထာဝရဘုရား ၏ ပသခါ ဖြစ် သ
၁၂ ဘည်။– အကြောင်းမူကား၊ ယနေ့ညည့်တွင်
အဲဂုတ္တုပြည်ကို ငါသည်ထုတ်ချင်းခပ်သွား၍၊
အဲဂုတ္တုပြည်၌ရှိသော လူတို့၏သားဦးများနှင့်၊
တိရိစ္ဆာန် တို့၏ သား ဦး များ အ ပေါင်း တို့ကို
ဒါဏ် ခတ်၍၊ အဲဂုတ္တုပြည်၏ ဘုရားတို့ကို တ
ရားစီရင်မည်။ ငါသည် ထာဝရဘုရားဖြစ်၏။–
၁၃ ထိုးသငယ်၏အသွေးသည် သင်တို့နေရာအိမ်၌၊
သင်တို့၏ ထင်ရှားသော သက်သေ ဖြစ်၍၊ ထို အ
သွေးကို ငါမြင်သော အခါ၊ သင်တို့ကို ငါလွှန်
သွားမည်။ထိုသို့အဲဂုတ္တုပြည်ကိုငါသည်ဒါဏ်
ခတ်သောအခါ၊ဖျက်ဆီးခြင်းဘေးဥပါဒ်သည်
၁၄ သင်တို့ကို မသင့်မရောက်ရ။– ဤနေ့ရက်သည်
ထည်း၊ သင်တို့အောင်းမေ့စရာဘို့ဖြစ်၍၊ သင်
တို့၏အမျိုးအစဉ်အဆက်မပြတ်၊ ဤနေ့ရက်၌
ထာဝရဘုရားအားပွဲခံရကြမည်။ပညတ်တော်
ရှိသည်ဖြစ်၍၊ထိုပွဲကိုအစဉ်အမြဲခံရကြမည်။–
၁၅ ခုနှစ်ရက်ပတ်လုံး တဆေးမပါသောမုန့်ကို စား
ရမည်။ ပဌမနေ့ရက်၌ တဆေးကို အိမ်များမှ
ပယ် ရမည်။ ပဌမနေ့မှစ၍ ခုနှစ်ရက် နေ့ တိုင်
အောင်၊ တဆေး ပါသောမုန့်ကို စားသော သူ
မည်သည်ကား၊ ဣသရေလအမျိုးမှ ပယ်ရှင်း
၁၆ ခြင်းကို ခံရမည်။– ပဌမ နေ့၌ ၎င်း၊ ခုနှစ်ရက်
နေ့၌၎င်း၊ ဓမ္မစည်းဝေးခြင်းကိုပြုရမည်။ ထိုနေ့
ရက်၌ လူတိုင်းစားခြင်း ကိစ္စနှင့်ဆိုင်သော အ
လုပ်အဆောင်မှတပါးအခြားသောအလုပ်ကိုမ
၁၇ လုပ် မဆောင်ရ။– ထိုအဇာမပွဲကို ခံရသောအ
ကြောင်းဟူမူကား၊ ထိုနေ့ရက်၌ သင်တို့ဗိုလ်
ခြေများကို၊ အဲဂုတ္တုပြည်ထဲက ငါနှုတ်ဆောင်
သည် ဖြစ်၍၊ ထို အကြောင်း ကြောင့် ပညတ်
တော်ရှိသည်အတိုင်း၊သင်တို့၏အမျိုးအစဉ်အ
ဆက်မပြတ်၊ ထို နေ့ရက်ကို အမြဲ စောင့်ရ ကြ
၁၈ မည်။– ပဌမလဆယ်လေးရက်နေ့ ညဦးမှစ၍၊
နှစ်ဆယ်တရက်နေ့ ညဦးတိုင်အောင်၊ သင်တို့
သည် တဆေးမပါသောမုန့်ကိုစားရကြမည်။–
၁၉ ခုနှစ်ရက်ပတ်လုံး သင်တို့အိမ်များ၌ တဆေးမ
ရှိရ။ တဆေးပါသောမုန့်ကို စားသောသူ မည်
သည်ကား၊ တကျွန်းတနိုင်ငံသားဖြစ်စေ၊ပြည်
သားဖြစ်စေ၊ဣသရေလအမျိုးပရိသတ်မှပယ်
၂၀ ရှင်းခြင်းကိုခံရမည်။– သင်တို့နေရာ အရပ်ရပ်
တို့၌ တဆေးပါသောမုန့်ကိုမစားရ။ တဆေးမ
ပါသောမုန့်ကိုသာစားရမည်ဟုမိန့်တော်မူ၏။
၂၁ ထိုအခါ မောရှေသည် ဣသရေလအမျိုး အ
သက်ကြီးသူအပေါင်းတို့ကိုခေါ်၍၊သင်တို့သည်
အိမ် ထောင်များ အသီးအသီး ကိုယ်စီ ကိုယ်စီ
သိုး သငယ် တို့ကိုယူ၍၊ ပသခါပွဲဘို့ သတ်ကြ
၂၂ လော့။– ဟုဿုပ်ပင်ညွန့်တစည်းကိုယူ၍၊အင်
တုံ၌ထည့်သော အသွေးထဲမှာ နှစ်ပြီးလျှင်၊ တံ
ခါးထုပ် တံခါးတိုင်နှစ်ဖက်တို့ကို ထိုးသုတ်ကြ
လော့။ထိုနောက်မှနံနက်တိုင်အောင်အဘယ်သူ
၂၃ မျှ မိမိအိမ် တံခါးပြင်သို့မထွက် မသွားရ။– အ
ကြောင်းမူကား၊ထာဝရဘုရားသည်အဲဂုတ္တုလူ
တို့ကို ဒါဏ် ခတ်ချင်း၄ါ၊ ထုတ်ချင်းခတ် သွား
တော်မူမည်၊တံခါးထုပ်နှင့်တံခါးတိုင်နှစ်ဖက်၌
ရှိသောအသွေးကိုမြင်သောအခါ၊ထာဝရဘုရား
သည်တံခါးကိုလွှန်သွားတော်မူမည်။ ဖျက်ဆီး
သောသူသည်သင်တို့ကိုဒါဏ်ခတ်ခြင်း၄ါ၊အိမ်
၂၄ ထဲသို့ဝင်ရသော အခွင့်ကိုပေးတော်မမူ။– သင်
တို့နှင့်သင်တို့၏သားများ၌ပညတ်တော်ရှိသည်
ဖြစ်၍၊ဤအမှုကိုအစဉ်အမြဲစောင့်ရကြမည်။–
၂၅ ဂတိတော် ရှိသည်အတိုင်း၊ ထာဝရဘုရားပေး
တော်မူလတံ့သောပြည်သို့၊သင်တို့သည်ရောက်
၂၆ ကြသောအခါ၊ ဤဝတ်ကိုပြုရမည်။– သင်တို့၏
သားမြေးတို့က၊ ဤဝတ်ကိုပြု၍၊ အဘယ်သို့ဆို
၂၇ လိုသနည်းဟုမေးမြန်းကြလျှင်၊–ထာဝရဘုရား
သည် အဲဂုတ္တုလူတို့ကိုဒါဏ်ခတ်၍၊ ငါတို့အိမ်
များကိုချမ်းသာပေးတော်မူသောအခါ၊အဲဂုတ္တု
ပြည်၌ ဣသရေလအမျိုးသားတို့၏အိမ် များကို
လွှန်သွားတော်မူသော၊ ထာဝရဘုရား၏ပသခါ
ယဇ် ဖြစ်သတည်းဟု၊ ပြန်ပြော ရကြမည်ဟု
မောရှေဆိုပြီးလျှင်၊ထိုသူတို့သည်ဦးညွှတ်ချ၍
၂၈ ကိုးကွယ်ကြ၏။– ထိုသို့ မောရှေနှင့်အာရုန် တို့
ကိုထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊
ဣသရေလအမျိုးသားတို့သည်ပြုကြ၏။

၂၉ ထိုနေ့ သန်းခေါင်အချိန်၌၊ ထာဝရဘုရားသည်နန်း
ထိုင်သောဖာရောဘုရင်၏သားဦးမှစ၍၊ ထောင်
ထဲမှာအကျဉ်းခံရသောသူ၏သားဦးတိုင်အောင်၊
အဲဂုတ္တုပြည်၌သားဦးရှိသမျှကိုငှင်း၊ တိရစ္ဆာန်
တို့၏ သားဦးရှိသမျှကိုငှင်း ဒဏ်ခတ်တော်မူ
၃၀ ၏။- ထိုညဉ့်တွင်၊ ဖာရောဘုရင်နှင့် သူ၏ကျွန်
များ၊ အဲဂုတ္တုလူများတို့သည်ထကြ၍၊ အသေ
ကောင် ကင်းသော အိမ် တ အိမ်မျှ မရှိ သော
ကြောင့်၊ အဲဂုတ္တုပြည်၌ ကြီးစွာသော ငိုကြွေး
၃၁ ခြင်းဖြစ်လေ၏။- ထိုညဉ့်ချင်းတွင်မောရှေနှင့်
အာရုန်ကိုခေါ်တော်မူလျှင်၊ သင်တို့မှစ၍ ဣသ
ရေလ အမျိုးသားတို့၊ ထ၍ငါလူစုထဲက ထွက်
သွားကြလော့၊ သင်တို့တောင်းသည်အတိုင်း၊
ထာဝရ ဘုရားအားသွား၍ ဝတ်ပြုကြလော့။-
၃၂ သင်တို့တောင်းသည်အတိုင်း၊ သိုးနွားများကို
ယူ၍ သွားကြလော့၊ ငါ့ကိုလည်း ကောင်းကြီး
၃၃ ပေးကြလော့ဟု မိန့်တော်မူ၏။- အဲဂုတ္တုလူတို့
ကလည်း၊ ငါတို့ရှိသမျှသည်အသေကောင်ဖြစ်
ကြပြီဟုဆိုလျက်၊ ဣသရေလလူတို့ကိုအဲဂုတ္တု
ပြည် ထဲက၊ အလျင်အမြန် ထွက်ခြင်းငှါ ကြပ်
၃၄ ကြပ်နှိုးဆော်ကြ၏။- ထိုလူတို့သည် တဆေး မ
ရောသေးသော မုန့်စိမ်းကိုယူ၍၊ မုန့်နယ်သော
ခွက်တို့ကိုလည်းအဝတ်နှင့်တကွထုပ်၍ထမ်း
၃၅ ကြ၏။- မောရှေမိန့်သည်အတိုင်း၊ ဣသရေလ
အမျိုးသားတို့သည်ငွေတန်ဆာ၊ ရွှေတန်ဆာ၊ အ
ဝတ် တန်ဆာများကို အဲဂုတ္တုလူတို့၌ တောင်း
၃၆ ကြ၏။- တောင်းသည် အတိုင်းလည်း၊ ပေးချင်
သောစေတနာစိတ်ကို၊ အဲဂုတ္တုလူတို့အားထာ
ဝရဘုရား ပေးတော်မူသဖြင့်၊ အဲဂုတ္တုလူတို့၏
ဥစ္စာများကိုလုယူကြ၏။
၃၇ ဣသရေလအမျိုးသားမိန်းမနှင့်သူငယ်ကိုမဆို
ဘဲ၊ ယောကျ်ားအရေအတွက်အားဖြင့်ခြောက်
သိန်းခန့်မျှ ရှိသောသူတို့သည်၊ ရာမသက်မြို့မှ
၃၈ ထွက်၍ သုကုတ်အရပ်သို့ခရီးသွားကြ၏။- အ
မျိုးမျိုးသောလူအများတို့သည်လည်း၊ သိုးနွား
အစရှိသော များစွာသောတိရစ္ဆာန်တို့နှင့်တကွ
၃၉ လိုက်ကြ၏။- တဆေးမရောဘဲအဲဂုတ္တုပြည်မှ
ဆောင်ခဲ့သော မုန့်စိမ်းကို ယူ၍၊ တဆေး မပါ
သောမုန့်ကိုဖုတ်ရကြ၏။ အကြောင်းမူကား၊ အဲ
ဂုတ္တုပြည်၌ မနေမဝင့် အနှင်ခံရသောကြောင့်၊
ကိုယ်စားစရာကိုမပြင်မှီကြ။
၄၀ ဣသရေလအမျိုးသားတို့သည်အဲဂုတ္တုပြည်
၌ နေသည် ကြာ၍၊ တည်းခိုနေကြသော ကာလ
နှစ်ပေါင်းလေးရာ သုံးဆယ် ဖြစ်သတည်း။-
၄၁ နှစ်လေးရာသုံးဆယ်စေ့သောနေ့ချင်းတွင်၊ ထာ
ဝရဘုရား၏ဗိုလ်ခြေအပေါင်းတို့သည်၊ အဲဂုတ္တု
၄၂ ပြည်မှထွက်သွားကြ၏။- အဲဂုတ္တုပြည်မှနှုတ်
ဆောင် တော် မူသော အတွက် ကြောင့်၊ ထို ည
ညဉ့်ကို အထူးသဖြင့် ထာဝရ ဘုရား၌ စောင့်
စရာကောင်း၏၊ ဣသရေလအမျိုးသားတို့၏ အ
မျိုးအစဉ်အဆက်မပြတ်၊ စောင့်ရသောထာဝ
ရဘုရား၏ညဉ့်ကား၊ ဤသည်ညဉ့်ပေတည်း။
၄၃ ပသခါပွဲတရားဟူမူကား၊ တပါးအမျိုးသား
၄၄ မစားရ။- သို့ရာတွင်ငွေနှင့်ဝယ်သောကျွန်သည်၊
၄၅ အရေဖျားလှီးမင်္ဂလာကိုခံပြီးလျှင်စားရ၏။- တ
ကျွန်းတံနိုင်ငံသားဖြစ်စေ၊ အခစားသောကျွန်
၄၆ ဖြစ်စေ၊ မစားရ။- တအိမ်တည်း၌ စားကောင်
ကိုစားရ၏၊ အသားကို အိမ်ပြင်သို့ ထုမသွား
၄၇ ရ၊ အရိုးကိုလည်းမချိုးရ။- ဣသရေလအမျိုး
သား ပရိသတ် အပေါင်း တို့သည် ထိုပွဲကို ခံ
၄၈ ရ ကြမည်။- သင် တို့ ထံမှာ တည်းခို သော တ
ပါးအမျိုးသားသည်၊ ထာဝရဘုရားအဖို့ ပသ
ခါပွဲကို ခံခြင်းငှါ အလို ရှိလျှင်၊ သူ၌ ရှိသော
ယောကျ်ား အပေါင်း တို့သည်၊ အရေဖျားလှီး
မင်္ဂလာကို ခံကြစေ၊ သို့ပြီးမှ ထိုသူသည် ပြည်
သားကဲ့သို့ ဖြစ်သောကြောင့်၊ ချဉ်း၍ထိုပွဲသို့
ဝင်စေ၊ အရေဖျားလှီး မင်္ဂလာကို မခံသောသူ
၄၉ မည်သည်ကား၊ ထိုပွဲ၌ဝင်၍မစားရ။- အမျိုး
သား ချင်း ဖြစ်သောသူ၊ သင်တို့တွင် တည်းခို
သောတပါး အမျိုးသား ဖြစ်သောသူတို့သည်၊
တပါးတည်းသောတရားနှင့်ဆိုင်ကြ၏ဟု၊ ထာ
ဝရဘုရားသည် မောရှေနှင့် အာရုန်၌ ပညတ်
၅၀ ထား တော်မူ၏။- ထိုသို့ မောရှေနှင့် အာရုန်၌၊
ထာဝရ ဘုရား ပညတ် ထား တော် မူသည် အ
တိုင်း၊ ဣသရေလအမျိုးသားအပေါင်းတို့သည်
၅၁ ပြုကြ၏။- ထိုနေ့ချင်းတွင် ထာဝရဘုရားသည်၊
ဣသရေလအမျိုးသားဗိုလ်ခြေတို့ကို၊ အဲဂုတ္တု
ပြည်မှဆောင်သွားတော်မူပြီးလျှင်၊

၁၃

၁ မောရှေကိုခေါ်၍၊ ဣသရေလအမျိုးသားတို့
၂ တွင်၊ အဦးဖွားသောသူ၊ လူဖြစ်စေ၊ တိရစ္ဆာန်
ဖြစ်စေ၊ သားဦးအပေါင်းတို့ကိုငါ့အဖို့သန့်ရှင်း
စေလော့၊ ငါ့ဥစ္စာဖြစ်ကြသည်ဟုမိန့်တော်မူ၏။
၃ မောရှေကလည်း၊ သင်တို့သည်ကျွန်ခံနေရ

အဲဂုတ္တုပြည်မှ ထွက်သွားသော ဤနေ့ရက်ကို
အောင်မေ့ ကြလော့၊ ထာဝရ ဘုရား သည်
အားကြီးသော လက်တော်ဖြင့်၊ သင်တို့ကို ထို
ပြည်မှ နှုတ်ဆောင်တော်မူပြီ၊ တဆေးပါသော
၄ မုန့်ကိုမစားရ။- အဗိဗလ၊ ယနေ့၌ ပင်သင်တို့
၅ သည် ထွက်သွားကြပြီ။- သင်တို့အား ပေးခြင်း
ငှါ၊ထိုးဘိုးဘေးများ၌ထာဝရဘုရားကျိန်ဆိုတော်
မူသောပြည်၊ခါနနိလူ၊ဟိတ္တိလူ၊ အာမောရိလူ၊
ဟိဝိလူ၊ ယေဗုသိလူတို့ နေရာတည်းဟူသော၊
နို့နှင့်ပျားရည် စီးသောပြည်သို့ ပို့ဆောင်တော်
မူပြီးမှ၊ ထိုလတွင်သင်တို့သည် ဤဝတ်ကိုပြု
၆ ရကြမည်။- ခုနစ်ရက် ပတ်လုံး တဆေး မပါ
သောမုန့်ကို စားပြီးမှ၊ ခုနစ်ရက်မြောက်သော
နေ့တွင်၊ ထာဝရဘုရားအဖို့ ပွဲခံရကြမည်။-
၇ တဆေး မပါသောမုန့်ကို စားရသောခုနစ်ရက်
ပတ်လုံး၊ သင်တို့၌ တဆေးကို မတွေ့ မမြင်ရ၊
သင်တို့နေသော အရပ်ရပ်တို့၌လည်း၊ မတွေ့မ
၈ မြင်ရ။-ငါတို့သည် အဲဂုတ္တုပြည်မှထွက်သော
အခါ၊ ထာဝရဘုရားပြုတော်မူသောကျေးဇူး
တော်ကြောင့်ဤသို့ပြုရ၏ဟု၊ထိုနေ့၌သားမြေး
၉ တို့အား ကြားပြောရမည်။- ထာဝရ ဘုရား၏
တရား သည်၊ သင်၏ နှုတ်၌ တည် မည် အ
ကြောင်း၊ ဤအရာသည် သင်၏ လက်၌ လက္ခ
ဏာသတ်သေ၊ သင်၏မျက်မှောက်ကြား၌ အောက်
မေ့စရာ ဖြစ်ရမည်၊ အားကြီးသော လက်တော်
ဖြင့်ထာဝရဘုရားသည်၊ သင့်ကိုအဲဂုတ္တုပြည်
၁၀ မှနှုတ် ဆောင် တော် မူပြီ။- ထိုကြောင့် စီရင်
တော်မူသော ဤထုံးစံကို၊ မိမိအချိန်၌ နှစ်စဉ်
အတိုင်းစောင့်ရှုကြမည်။
၁၁ သင်တို့၌၎င်၊ ဘိုးဘေး၌၎င်၊ ကျိန်ဆိုတော်မူ
သည်အတိုင်း၊ထာဝရဘုရားသည်သင်တို့ကိုပို့
ဆောင်၍၊ထိုပြည်ကိုပေးသနားတော်မူသောအ
၁၂ ခါ။- သင်တို့၌အဦးဖွားသောသားအပေါင်းတို့
နှင့်၊သင်တို့၌ရှိသော တိရိစ္ဆာန်တို့၏သားဦးအ
ပေါင်းတို့ကို၊ထာဝရဘုရားအဖို့ အသီးအခြား
ခွဲထားရကြမည်၊ အထီးဖြစ်သမျှတို့သည်၊ထာဝ
၁၃ ရဘုရား၏ဥစ္စာဖြစ်ရကြမည်။- မြည်း၌အဦးဖွား
သော မြည်းသငယ်ကို၊ သိုးသငယ်နှင့် ရွေးရမည်၊
မရွေးလိုလျှင်၊ မြည်းသငယ် လည်ပင်းကို ချိုးရ
မည်၊လူသားတို့တွင်သားဦးအပေါင်းကိုရွေးရ
၁၄ မည်။-နောင်ကာလ၌သင်၏သားကလည်း၊ အ
ဘယ်သို့နည်းဟု မေးမြန်းလျှင်၊ သင်ကလည်း၊
ကျွန်ခံနေရာ အဲဂုတ္တုပြည်မှ၊ ထာဝရ ဘုရား
သည်အားကြီးသော လက်တော်ဖြင့်၊ ငါတို့ကို
၁၅ နှုတ်ဆောင်တော်မူ၏။- ဖာရောဘုရင်သည်၊ငါ
တို့ကို အလွယ်တကူ မလွှတ်ဘဲနေသောအခါ၊
အဲဂုတ္တုပြည်၌ လူဖြစ်စေ၊ တိရိစ္ဆာန် ဖြစ်စေ၊
သားဦး အပေါင်း တို့ကို ထာဝရ ဘုရား ကွပ်
မျက် တော်မူ၏၊ ထိုကြောင့် အဦး ဖွားသော
တိရိစ္ဆာန်အထီး ရှိသမျှတို့ကို၊ ထာဝရဘုရား
အား ယဇ်ပူဇော်ရမည်၊ ကိုယ်သား၊ တို့တွင်
၁၆ သားဦးကိုရွေးရမည်ဟုပြန်ဆိုရမည်။- ဤအ
ရာသည်လည်း၊ သင်၏ လက္ခဏာ သတ်သေ၊
သင်၏မျက်မှောက်ကြား၌သင်းကျစ်ဖြစ်ရမည်၊ အ
ကြောင်းမူကား၊ ထာဝရဘုရားသည်အားကြီး
သောလက်တော်ဖြင့်၊ ငါတို့ကို အဲဂုတ္တုပြည်မှ
နှုတ်ဆောင်တော်မူပြီဟု၊ လူများတို့အားပြော
ဆိုလေ၏
၁၇ ဖာရောဘုရင်သည် လူတို့ကိုလွှတ်လေသော
နောက်၊ ဖိလိတ္တိ ပြည်ကို ရှောက် သော လမ်း
သည်ဖြောင့် သော်လည်း၊ ထိုလမ်းဖြင့် ဘုရား
သခင် ဆောင် တော်မမူ၊ အကြောင်း မူကား၊
သူတို့သည် စစ်မှုကို တွေ့မြင်သော အခါ စိတ်
ပျက်၍၊ အဲဂုတ္တုပြည်သို့ ပြန်ကောင်း ပြန်ကြ
၁၈ လိမ့်မည်ဟု သိတော်မူ၏။- ထိုကြောင့် ဘုရား
သခင်သည်၊ သူတို့ကိုဖဲ့ပင်ထယ်နား၊ တော
လမ်းဖြင့်ပိုင်း၍ ဆောင်တော်မူ၏၊ ဣသရေလ
အမျိုးသား တို့သည်၊ ခင်းကျင်းသော တပ်အ
စည်အတိုင်း၊အဲဂုတ္တုပြည်မှ ထွက်သွားကြ၏။-
၁၉ အထက်ကာလ၌ယောသပ်က၊ အကယ်စင်စစ်
ဘုရားသခင်သည် သင်တို့ကို အကြည့်အရှုကြွ
လာတော်မူမည်၊ ကျွန်ုပ်အရိုးတို့ကိုဤအရပ်မှ
ယူသွားရမည်ဟူ၍၊ ဣသရေလအမျိုးသားတို့
ကိုကြပ်ကြပ်ကျိန်ဆိုစေသောကြောင့်၊ သူ၏အ
ရိုးတို့ကိုမောရှေသည်မိမိ၌ ယူဆောင်လေ၏။
၂၀ တဖန်၊ သူတို့သည် သုကုတ်အရပ်မှ ထွက်
သွား၍တောအနားဧသံမြို့၌စားခန်းချကြ၏။-
၂၁ သူတို့သည် နေ့ည သွားနိုင် အောင်၊ ထာဝရ
ဘုရားသည် နေ့၌ကား၊ လမ်းပြဘို့ မိုဃ်းတိမ်
တိုင်အားဖြင့်၎င် ညည့်၌ကား၊ အလင်းပေးဘို့
မီးတိုင်အားဖြင့်၎င်၊သူတို့ရှေ့ကကြွတော်မူ၏။-
၂၂ နေ့အချိန်၌ မိုဃ်းတိမ်တိုင်၊ ညည့်အချိန်၌မီး
တိုင်ကို၊သူတို့ရှေ့မှရုပ်သိမ်းတော်မမူ။

## ၁၄

၁ ထာဝရဘုရားကလည်း၊- ဣသရေလအမျိုး
၂ သားတို့သည်ထည်၍၊ပိဟဟိရုတ်မြို့နား၊ မိဂ
ဒေါလမြို့နှင့် ပင်လယ်စပ်ကြား၊ ဗာလဇေဖုန်
မြို့ရှေ့မှာတပ်ချစေခြင်းငှါမှာထိုက်လော့၊ ထိုမြို့
ရှေ့၊ ပင်လယ်ကမ်းနားမှာ တပ်ချရကြမည်၊-
အကြောင်းမူကား၊ ဖာရော ဘုရင်က၊ ဣသရေ
လအမျိုး သားတို့ သည် ကျည်းကျပ် ရာသို့
ရောက်ကြပြီ၊ တောသည် ပိတ်လျက် ရှိ၏ ဟု
၄ ဆိုလိမ့်မည်၊-ငါသည်လည်း၊ ဖာရောဘုရင်၏
နှလုံးကိုခိုင်မာစေ၍၊ သူသည်ဣသရေလလူ
တို့ကိုလိုက်လိမ့်မည်၊ ငါသည်ထာဝရ ဘုရား
ဖြစ်ကြောင်းကို၊ အဲဂုတ္တု လူတို့သည် သိစေ
ခြင်းငှါ၊ထိုမင်းနှင့် သူ၏စစ်သူရဲ အလုံးအရင်း
အားဖြင့်၊ဘုန်းပွင့်လိမ့်မည်ဟု၊ မောရှေအား
မိန့်တော် မူသည် အတိုင်း၊ ထိုသူ တို့သည်ပြု
ကြ၏၊

၅ ထိုလူတို့ထွက်ပြေးကြောင်းကို၊ အဲဂုတ္တုရှင်
ဘုရင်အားကြားလျှောက်သဖြင့်၊သူမှစ၍ကျွန်
များတို့ သည် မနာလို သောစိတ် ပေါက် ပြန်
လျှင်၊ ငါတို့သည်ဤသို့ပြု၍၊ ဣသရေလလူတို့
ကိုငါတို့စေခိုင်းရာမှ အဘယ်ကြောင့် လွှတ်ရ
၆ သနည်း၊ ဟု ပြောဆို ကြ၏၊- ထိုအခါ ဖာရော
ဘုရင်သည်၊ ရထားတော်ကို ပြင်၍၊ မိမိလူအ
၇ ပေါင်း တို့ကို ခေါ်ဆောင်၏၊- ရွေးသော ရထား
ခြောက်ရာ၊ အဲဂုတ္တုမြင်းစီးသူရဲ အပေါင်းနှင့်
တကွ၊ ဗိုလ်မင်းအသီးအသီးတို့ကို ခေါ်ယူဆော
၈ ၏၊- ထာဝရဘုရားသည်၊ ဖာရောဘုရင်၏နှ
လုံးကို ခိုင်မာစေတော်မူသဖြင့်၊ သူသည်ဣသ
ရေလအမျိုးသားတို့ကို လိုက်လေ၏၊ ထိုသော်
လည်း၊ ဣသရေလလူတို့သည် ဝါကြွားသော
၉ အမြင်း အရာနှင့် ထွက်သွားကြ၏၊- ထိုသို့ဖာ
ရောဘုရင်၏မြင်းတော်၊ရထားတော်၊မြင်းစီးသူ
ရဲ ဗိုလ်ပါ၊ အဲဂုတ္တုလူအပေါင်းတို့သည် လိုက်
၍၊ ပိဟဟိရုတ် မြို့နား၊ ဗာလဇေဖုန် မြို့ရှေ့
ပင်လယ်ကမ်းနားမှာ တပ်ချလျက်နေသော ဣ
သရေလလူတို့ကိုမှီကြ၏၊

၁၀ ဖာရောဘုရင်သည် ချဉ်းကပ်သောအခါ၊ဣ
သရေလအမျိုးသားတို့သည်မျှော်ကြည့်၍၊ အဲ
ဂုတ္တုလူတို့ စစ်ချီလာကြောင်းကိုမြင်လျှင်၊ အ
လွန်ကြောက်လန့်၍ထာဝရ ဘုရားအားအော်
၁၁ ဟစ်ကြ၏၊- မောရှေကိုလည်း၊ အဲဂုတ္တုပြည်
၌သင်္ချိုင်း မရှိသောကြောင့်၊ ဤတော၌ သေ
စေခြင်းငှါ၊ငါတို့ကိုဆောင်ခဲ့သလော၊ ငါတို့ကို
ဤသို့ပြု၍၊ အဲဂုတ္တုပြည်မှ အဘယ် ကြောင့်
၁၂ ဆောင်ခဲ့သနည်း၊- ငါတို့သည် အဲဂုတ္တုလူတို့
ထံ၌အစေကျွန် ခံနေလျက် ရှိကြပါစေဟု၊ အဲ
ဂုတ္တုပြည်၌ငါတို့ပြောရာတွင်၊ ဤအမှုကိုရည်
စောင်၍ ပြောသည်မဟုတ်လော၊ငါတို့သည်ဤ
တော၌သေရသည်ထက်၊အဲဂုတ္တုလူတို့ထံ၌အ
စေကျွန်ခံလျှင်၊ သာ၍ကောင်းသည်ဟု ဆိုကြ
၁၃ ၏၊-မောရှေကလည်း၊မစိုးရိမ်ကြနှင့်၊ ငြိမ်ဝပ်
စွာရပ်နေကြ၊ထာဝရဘုရားသည်၊ယနေ့ပြတော်
မူသော ကယ်တင် ခြင်းကို ကြည့်ရှုကြလော့၊
သင်တို့သည်ယနေ့မြင်သော အဲဂုတ္တုလူတို့ကို၊
၁၄ နောက် တဖန် အလျှင်း မမြင် ရကြ၊- သင် တို့
ထက်၌ ထာဝရ ဘုရားသည် စစ်တိုက်တော်မူ
လိမ့် မည်၊ သင်တို့ သည် ငြိမ်ဝပ်စွာ နေရ ကြ
၁၅ မည်ဟု၊ လူများတို့အား ဆို၏၊- ထာ ဝရဘုရား
ကလည်း၊ အဘယ်ကြောင့် ငါ့ကို အော်ဟစ်သ
နည်း၊ ဣသရေလ အမျိုးသား တို့သည် ထွက်
၁၆ သွားစေခြင်းငှါမှာထိုက်လော့၊-သင်မူကား၊လှံ
တံကိုချီပြီးလျှင်၊ ပင်လယ်ပေါ်မှာလက်ကိုဆန့်
၍ ပင်လယ်ရေကို ခွဲလော့၊ ဣသရေလ အမျိုး
သားတို့သည် ပင်လယ်အလယ်၌ မြေပေါ်မှာ
၁၇ ရှောက် သွားရ ကြမည်၊- ငါသည်လည်း အဲ
ဂုတ္တုလူတို့၏နှလုံးကို ခိုင်မာစေသဖြင့်၊သူတို့
သည်လိုက်ကြလိမ့်မည်၊ဖာရောဘုရင် နှင့်သူ၏
ဗိုလ်ခြေ၊ ရထား၊ မြင်းစီး သူရဲ တို့အား အားဖြင့်
၁၈ ငါဘုန်း ပွင့်လိမ့်မည်၊- ထိုသို့ဖာရော ဘုရင်နှင့်
သူ၏ရထားတို့၊ မြင်းစီး သူရဲ တို့အားအားဖြင့် ငါ
ဘုန်း ပွင့်သောအခါ၊ ငါသည် ထာဝရဘုရား
ဖြစ်ကြောင်းကို၊ အဲဂုတ္တု လူတို့သည် သိရကြ
လိမ့်မည်ဟု၊မောရှေအားမိန့်တော်မူ၏၊

၁၉ ထိုအခါ ဣသရေလ တပ်ရှေ့မှာ သွားသော
ဘုရားသခင်၏ ကောင်းကင်တမန်သည်နောက်
၌လိုက်သဖြင့်၊ မိုဃ်း တိမ်တိုင်သည် သူတို့ရှေ့
၂၀ ကနေ၍နောက်၌ရပ်နေလေ၏၊- ထိုသို့အဲဂုတ္တု
တပ်နှင့် ဣသရေလ တပ် စပ်ကြားသို့ ရောက်
လျှင်၊ အဲဂုတ္တုလူတို့၌ မိုက်သော မိုဃ်းတိမ်
ဖြစ်၍၊ ဣသရေလ လူတို့အား အလင်းကိုပေး
လျက်နေသဖြင့်၊ တညဉ့်လုံး တစ်တဦးနှင့်တ
၂၁ ဦးမချဉ်းနိုင်ရ၊- မောရှေသည်ပင်လယ်ပေါ်
မှာလက်ကို ဆန့်၍၊ ထာဝရ ဘုရား သည် အ

ညည့်ထုံမှုအားကြီးသော အရှေ့လေအားဖြင့်၊
ပင်လယ်ရေကိုဖွန်ပြန်၍၊ မြေကိုပေါ်စေတော်
၂၂ မူသည်နှင့်၊ ရေသည် ကွဲပြတ်လျှက်ရှိ၏။-ဣသ
ရေလ အမျိုးသားတို့သည် ပင်လယ်အလယ်၌
မြေပေါ်မှာ ရှောက်သွားကြ၍၊ ရေသည် သူတို့
လက်ျာဘက်၊ လက်ဝဲဘက်မှာ ကျောက် ထရံ
၂၃ ကဲ့သို့ရှိနေ၏။- အဲဂုတ္တုလူ ရှား၊ ဖါရောဘုရင်
၌ ဟိုသောမြင်း၊ ရထား၊ မြင်းစီးသူရဲ အပေါင်း
တို့သည်၊ပင်လယ်အလယ်သို့လိုက်ဝင်ကြ၏။-
၂၄ နံနက်ယံ၌ ထာဝရ ဘုရားသည် မီးမိုဃ်းတိမ်
တိုင်အားဖြင့်အဲဂုတ္တုတပ်ကို၊ကြည့်ရှု၍နှောင့်
၂၅ ရှက်တော်မူ၏၊- သူတို့ရထား အသွား ခက်စေ
ခြင်းငှါ၊ ရထားဘီးရှားကို ရှုတ်စေတော်မူ၏။
အဲဂုတ္တုလူတို့ကလည်း။ ဣသရေလလူတို့ထံမှ
ပြေးကြစို့။ထာဝရဘုရားသည်သူတို့ဘက်၊ အဲ
ဂုတ္တုလူတို့တစ်ဘက်၌ စစ်တိုက်သည်ဟုပြောဆို
ကြ၏။
၂၆ ထာဝရဘုရားကလည်း၊ ပင်လယ်ရေသည်
အဲဂုတ္တုလူရှား၊ ရထားရှား၊ မြင်းစီးသူရဲရှား
တို့အပေါ်သို့ ပြန်စေခြင်းငှါ၊ ပင်လယ်အပေါ်
မှာ လက်ကို ဆန့်လော့ဟု၊ မောရှေအား မိန့်
၂၇ တော်မူသည်အတိုင်း၊-မိုဃ်းလင်းသောအခါ၊
မောရှေသည်လက်ကို ပင်လယ်ပေါ်မှာဆန့်သ
ဖြင့်၊ ပင်လယ် ရေသည် အား ကြီး၍ ပြန် လာ
သည်ကို၊ အဲဂုတ္တု လူတို့သည် ပြေးကြ သော်
လည်း။ ထာဝရဘုရားသည် သူတို့ကိုပင်လယ်
၂၈ အလယ်၌ဖျက်ဆီးတော်မူ၏၊-ထိုသို့ပင်လယ်ရေ
သည်ပြန်လာ၍၊ပင်လယ်ထဲသို့လိုက်ဝင်သော
ဖါရောဘုရင်၏ရထား၊ မြင်းစီးသူရဲ၊ ဗိုလ်ခြေ
အပေါင်းတို့ကိုလွှမ်းမိုးသဖြင့်၊တစ်ယောက်
၂၉ မျှမ ကျန်ရစ်ရ၊- ဣသရေလ အမျိုးသား တို့မူ
ကား၊ ပင်လယ်အလယ်၌ မြေပေါ်မှာရှောက်
သွား၍၊ ရေသည်သူတို့လက်ျာဘက်၊ လက်ဝဲ
၃၀ ဘက်မှာကျောက်ထရံကဲ့သို့ရှိနေ၏။-ထိုသို့ထာ
ဝရဘုရားသည်ထိုနေ့၌ ဣသရေလလူတို့ကို၊အဲ
ဂုတ္တုလူတို့လက်မှ ကယ်တင်တော်မူသဖြင့်၊
ပင် လယ် ကမ်း နားမှာ အဲဂုတ္တု လူ အ သေ
၃၁ ကောင်တို့ကိုမြင်ရကြ၏။- ထိုသို့အဲဂုတ္တုလူတို့
၌ထာဝရဘုရား ပြုတော်မူသော အမှုကြီးကို၊
ဣသရေလလူတို့သည်မြင်၍၊ ထာဝရဘုရားကို
ကြောက်ရွံ့ ကြ၏၊ ထာဝရ ဘုရား နှင့် ကိုယ်
တော်၏ကျွန်မောရှေကိုယုံကြည်ကြ၏။

၁၅

၁ ထိုအခါမောရှေနှင့်ဣသရေလအမျိုးသားတို့
သည်၊ ထာဝရ ဘုရား အား သီ ချင်း ဆို သော
စကားဟူမူကား၊ထာဝရဘုရား သည်ဘုန်းပွင့်
လျှက်အောင်ပွဲ ခံတော်မူ သည်ဖြစ်၍၊ ကိုယ်
တော်အားသီချင်းဆိုပါမည်။ မြင်းနှင့်မြင်းစီးသူ
၂ ရဲကို၊ ပင်လယ်ထဲသို့ ဖြည်ချတော်မူပြီ။- ထာ
ဝရ ဘုရားသည် အစွမ်းသတ္တိ၊ ငါသီချင်းဆို
ကြောင်း။ ငါ့ကိုကယ်တင်သောအရှင်ဖြစ်တော်
မူ၏၊ထိုဘုရားသည် ငါကိုးကွယ်သော ဘုရား
သခင်ဖြစ် တော်မူ၍၊တောမနာ ပြုပါမည်။ထို့
အပြင် ငါ့ ဘုရားသခင် ဖြစ်တော် မူ၍၊ ငါ ချီး
၃ မြှောက်ပါမည်။- ထာဝရဘုရားသည်စစ်သူရဲ
ဖြစ်တော်မူ၏၊ ထာဝရဘုရားသည်၊ဟူသောနာ
၄ မတော်ရှိတော်မူ၏။-ဖါရောဘုရင်၏ရထားနှင့်
ဗိုလ်ခြေတို့ကို ပင်လယ်ထဲသို့ ဖြည်းချတော်မူ
ပြီ၊ ရွေးသော ဗိုလ်မင်းတို့သည်၊ ဧဒုံပင်လယ်
၅ ထဲ၌ မြုပ်လျှက်ရှိကြ၏။- နက်နဲသောအရပ်၌
လွှမ်းမိုးလျှက်ရှိကြ၏၊ ကျောက်ကဲ့သို့အောက်
၆ သို့ဆင်းကြ၏၊-အိုထာဝရဘုရား၊လက်ျာလက်
တော်သည် တန်ခိုးအားဖြင့် ဘုန်းကြီးတော်မူ
၏။အိုထာဝရဘုရား၊ လက်ျာလက်တော်သည်
၇ ရန်သူတို့ကိုရိုက်ခွဲ ဖျက်ဆီး တော်မူ၏။- ကိုယ်
တော်တစ်ဘက်၌ ထသောသူတို့ကို၊ ဘုန်းတန်ခိုး
အာနုဘော်တော်နှင့် ဖြည်းတော်မူ၏၊ အမျက်
တော်ကို လွှတ်၍၊ သူတို့ကို အမှိုက် ကဲ့သို့ မီး
၈ လောင်စေတော်မူ၏။-နှာခေါင်းတော်လေအား
ဖြင့်ရေသည် စုဝေး၍၊ စီးသောရေသည်ပုံပုံကြွ
၍၊ ပင်လယ်၏ အထဲ၌ပင် နက်သော ရေသည်
၉ တောင့်မာလျှက် နေရ၏။- ရန်သူက၊ ငါလိုက်
မည်၊ သူတို့ကိုမှီလိမ့်မည်၊ လုယူသောဥစ္စာကို
ဝေ၍၊ သူတို့၌ ငါ့စိတ်ရဲ ပြေလိမ့်မည်၊ ဓားကို
ဆွဲမှုတ်၍၊ သူတို့ကို ငါ့လက် နှင့် ဖျက်ဆီး
၁၀ မည်ဟု ဆိုသတည်း။- ကိုယ်တော်သည်လေကို
မှုတ်တော် မူသဖြင့်၊ ပင်လယ်သည် သူတို့ကို
လွှမ်းမိုး၍၊ သူတို့သည်အားကြီးသောရေထဲမှာ
၁၁ ခဲကဲ့သို့ ဆင်းကြလေ၏။- အို ထာဝရ ဘုရား၊
ဘုရားများ တို့တွင် အဘယ်မည်သော ဘုရား
သည်၊ ကိုယ်တော်နှင့်တူပါသနည်း။ သန့်ရှင်း
ခြင်းအားဖြင့် ဘုန်းကြီးတော် မူထသော၊ ချီး
မွမ်းခြင်းကို ခံစည်တွင်၊ ကြောက်မက် ဖွယ်
ဖြစ်တော်မူထသော ထုံးထွယ်သောအမှုတို့ကို

ပြုတော်မူသော၊ ကိုးကွယ်ခြင်းနှင့်အထူးထူးသောဘုရား
၁၂ ရှိပါသနည်း။- လက်ျာ လက် တော်ကို ဆန့်
၁၃ တော်မူသဖြင့်၊ သူတို့ကိုမြေမြိုတ်လေ၏။- ရွေး
တော်မူသောလူမျိုးကိုကရုဏာတော်အားဖြင့်
ပို့ဆောင်တော်မူ၏၊ သန့်ရှင်းသော နေတော်မူ
ရာသို့၊ တန်ခိုးတော်အားဖြင့် ထမ်းပြတော်မူ
၁၄ ၏။- လူမျိုးတို့သည် ထိတ်လန့်ကြ၍ ကြောက်
လန့်ကြ လိမ့်မည်၊ ပါလေဒ္တိန ပြည်သူ ပြည်
သားတို့သည်၊ ပူပန်ခြင်းသို့ ရောက်ကြ လိမ့်
၁၅ မည်။- ဧဒုံ မိုလ်တို့သည်မိန်းမောတွေဝေခြင်း၊
မောဘ လူရဲတို့သည် တုန်လှုပ်ခြင်း၊ ခါနာန်
ပြည်သားအပေါင်းတို့သည် မိတ်ပျက်ခြင်းသို့
၁၆ ရောက်ကြလိမ့်မည်။- ထိုထာဝရဘုရား၊ ကိုယ်
တော်၏လူတို့သည် လွန်သွားသောအခါ၊ ရွေး
တော်မူသောကိုယ်တော်၏လူတို့သည်လွန်သွား
သောအခါ၊ ထိုလူအမျိုးမျိုးတို့သည် ကြောက်
သောစိတ်၊ ထိတ်လန့်သောစိတ် အားကြီး၍၊
လက် ရုံးတော် တန်ခိုးကြောင့်၊ သူတို့ သည်
၁၇ ကျောက်ကဲ့သို့ ငြိမ်ငြိမ် နေကြလိမ့်မည်။- ထို
ထာဝရဘုရား၊ အမွေခံတော်မူရာတောင်တည်း
ဟူသော၊ ကျိန်းဝပ်တော်မူရာဘို့ဖန်ဆင်းတော်
မူသော အရပ်ထဲသို့၊ ကိုယ် တော် ၏ လူ တို့ ကို
သွင်းတော် မူလိမ့်မည်၊ ထို ထာ ဝ ရ ဘု ရား၊
လက်တော်နှင့် တည်တော်မူသောသန့်ရှင်းရာ
၁၈ ဌာနတော်၌နေ ရာချတော်မူလိမ့်မည်။- ထာဝရ
၁၉ ဘုရားသည်ကာလအစဉ်အမြဲစိုးစံတော်မူ၏
အထည်၊ဟုသီခြင်းဆိုကြလေ၏။-အကြောင်း
မူကား ဖာရောဘုရင်၏မြင်းများ၊ ရထားများ၊
မြင်းစီးသူရဲများတို့သည်ပင်လယ်ထဲသို့ဝင်၍၊
ထာဝရဘုရားသည် သူတို့အပေါ်မှာပင်လယ်
ရေကို လွှမ်းမိုးစေတော်မူ၏၊ ဣသရေလအမျိုး
သားတို့မူကား၊ပင်လယ်အလယ်၌မြေပေါ်မှာ
ရှောက်သွားကြ၏။
၂၀ အာရုန်၏ အစ်မဖြစ်သော ပရောဖက်မ မိရိအံ
သည်ပတ်သာကိုကိုင်၍၊ မိန်းမအပေါင်းတို့သည်
ပတ်သာတီးလျက်ကလျက် လိုက်သွားကြ၏။-
၂၁ မိရိအံကလည်း၊ ထာဝရဘုရားသည်ဘုန်းပွင့်
လျက်အောင်ပွဲကိုခံတော်မူသည်ဖြစ်၍၊ ကိုယ်
တော်အား သီခြင်း ဆိုကြလော့၊ မြင်းနှင့်မြင်း
စီးသူရဲကိုပင်လယ်ထဲသို့လှည်းချတော်မူပြီဟု၊
လူတို့နှင့်အသံပြိုင်၍ဆိုလေ၏။
၂၂ ထိုနောက် မောရှေသည် ဣသရေလ လူတို့
ကို၊ ပင်လယ်နီမှ ဆောင်သွား၍၊ ရှုရှိတောရသို့
ရောက်ကြ၏၊ ထိုတော၌ သုံးရက်ခရီး
၂၃ သွား၍၊ ရေကိုမတွေ့ မရကြ။- မာရအရပ်သို့
ရောက်သော အခါ၊ မာရရေသည် ခါးသော
ကြောင့်မသောက်နိုင်ကြ၊ ထိုကြောင့် ထိုအရပ်
၂၄ ကိုမာရဟု သမုတ်ကြ သတည်း။- လူများတို့
သည် မောရှေကို အပြစ် တင်၍၊ ငြိမ်းလျှင်
လျက်၊ အဘယ်သို့ သောက်ရပါမည်နည်းဟု
၂၅ ဆိုကြ၏။- မောရှေသည် ထာဝရ ဘုရားအား
အော်ဟစ်၍၊ ထာဝရဘုရားသည် သစ်ပင်တ
ပင်ကို ပြတော်မူ၏၊ ထိုအပင်ကိုရေထဲသို့ ချပြီး
လျှင်၊ရေသည်ချိုလေ၏၊ ထိုအရပ်၌သူတို့ကိုနှံ
၂၆ စမ်း၍၊စီရင်ထုံးဖွဲ့တော်မူသည်ကား၊- သင်တို့
သည် သင်တို့၏ ဘုရားသခင် ထာဝရဘုရား၏
စကားကိုစေ့စေ့နားထောင်၍၊ နှစ်သက်တော်မူ
သော အကျင့်ကို ကျင့်လျှင်၎င်း၊ ပညတ်တရား
တော်အထိုသို့လိုက်၍၊ စီရင်တော်မူချက်ထုံးကို
စောင့်ရှောက်လျှင်၎င်း၊ ငါသည်အဲဂုတ္တုလူတို့၌
စွဲစေသော၊ ရောဂါတစုံတခုကိုမျှသင်တို့၌ မစွဲ
စေ၊ ငါသည်သင်တို့၏ရောဂါကိုငြိမ်းစေသော
၂၇ ထာဝရဘုရား ဖြစ်သည်ဟုမိန့် တော်မူ၏။- ထို
နောက်မှရေတွင်းဆယ်နှစ်တွင်း၊ စွန်ပလွံပင်ခု
နှစ်ဆယ်နှင့် ပြည့်စုံရာဧလိမ်ရွာသို့ရောက်၍၊
ထိုအရပ်တွင်ရေရှိရာအနားမှာတစ်ချကြ၏။

၁၆

၁ တဖန် ဣသရေလ အမျိုးသားပရိသတ် အ
ပေါင်းတို့ သည်၊ ဧလိမ် အရပ် မှ ထွက်၍ ခရီး
သွားကြ၏၊ အဲဂုတ္တုပြည် မှ ထွက် သွား သော
နောက်၊ဒုတိယလဆယ်ငါးရက်နေ့တွင်၊ဧလိမ်
အရပ်နှင့်သိနာတောင်စပ်ကြားမှာသိန်တောသို့
၂ ရောက်ကြ၏။-ထိုတော၌ဣသရေလအမျိုးသား
၃ ပရိသတ်အပေါင်းတို့က၊ ငါတို့သည်အဲဂုတ္တု
ပြည်၌အမဲသားချက်သောအိုးကင်းနားမှာထိုင်
၍၊ဝစွာစားရသောအခါ၊ထာဝရဘုရား၏လက်
တော်ဖြင့်သေလျှင် သာ၍ ကောင်း၏၊ ထိုမှ
ကား၊ဤစည်းဝေးလျက်ရှိသောလူအပေါင်းတို့
ကို၊ ငတ်မွတ်ခြင်းအားဖြင့်သတ်လိုသော၌၊ဤ
တောအရပ်သို့ဆောင်ခဲ့ပြီတကားဟု၊ မောရှေ
နှင့်အာရုန်ကို အပြစ်တင်၍ ငြိမ်းတမ်း လျက်
ဆိုကြ၏။
၄ ထိုအခါထာဝရဘုရားက ကြည့်ရှုလော့၊ ငါ
သည် သင်တို့အဘို့ မိုဃ်း ကောင်း ကင်က မုန့်

မိုဃ်းကို ရွာစေမည်၊ လူတို့သည်နေ့တိုင်းထွက်
၍၊ တနေ့စားလောက်အောင်သိမ်းယူရကြမည်၊
ငါ၏တရားအတိုင်းကျင့်မည်လော၊ မကျင့်လော
ဟု၊ ထိုသို့သောအားဖြင့်သူတို့ကိုငါစုံစမ်းမည်။-
၅ နေ့တိုင်း သိမ်းယူသော အရာထက်၊ ခြောက်
ရက်မြောက်သောနေ့၌ နှစ်ဆကိုသိမ်းယူ၍ပြင်
၆ ရကြမည်ဟု၊ မောရှေအားမိန့်တော်မူ၏။- မော
ရှေနှင့် အာရုန် တို့က လည်း၊ ထာဝရ ဘုရား
သည် သင်တို့ကို အဲဂုတ္တုပြည်မှ နှုတ် ဆောင်
တော်မူသည်ဟု၊ ယနေ့ ညဦးယံ၌သင်တို့သိကြ
၇ လိမ့်မည်။- နံနက်ယံ၌လည်း၊ ထာဝရဘုရား၏
ဘုန်းတော်ကို မြင်ရကြလိမ့်မည်၊ ထာဝရဘုရား
ကို အပြစ်တင်လျှက်၊ မြည်တမ်းကြသော အသံ
ကို ကြားတော်မူပြီ၊ ငါတို့ကို အပြစ် တင်လျှက်
မြည်တမ်း စေခြင်းငှါ၊ ငါတို့သည် အဘယ် သို့
သောသူဖြစ်သနည်းဟု၊ ဣသရေလ အမျိုးသား
၈ အပေါင်းတို့အားဆိုလေ၏။- တဖန်လည်းမော
ရှေက၊ ထာဝရ ဘုရားသည် ညဦးယံ၌၊ သင်တို့
စားစရာအမဲသားကိုငှင်၊ နံနက်ယံ၌ဝလောက်
အောင် မုန့်ကိုငှင် ပေးတော်မူသောအခါ၊ ဤစ
ကားပြည့်စုံလိမ့်မည်၊ သင်တို့သည်အပြစ်တင်
လျှက် မြည် တမ်း ကြသော အသံ ကို၊ ထာဝရ
ဘုရားကြားတော်မူပြီ၊ ငါတို့သည်အဘယ်သို့
သောသူဖြစ်သနည်း။ သင်တို့သည် အပြစ်တင်
လျှက်၊ မြည်တမ်းကြသောစကားသည်၊ ငါတို့
ကိုမထိမခိုက်၊ ထာဝရဘုရားကို ထိခိုက်သည်
၉ ဟုဆိုလေ၏။- တဖန်သင်တို့သည် အပြစ် တင်
လျှက်၊ မြည်တမ်းသောအသံကို၊ ထာဝရဘုရား
ကြားတော်မူသည်ဖြစ်၍၊ အထံတော်သို့ချဉ်း
ကပ် ကြလော့ ဟု၊ ဣသ ရေ လ အမျိုး သား ပ
ရိသတ်အပေါင်းတို့အားဆင့်ဆိုလော့ဟု၊ အာ
၁၀ ရုန်ကိုမှာထားသည်အတိုင်း၊- အာရုန်သည်ဣ
သရေလအမျိုးသားပရိသတ်အပေါင်းတို့အား
ဆင့်ဆိုသောအခါ၊ သူတို့သည် တောသို့ မျှော်
ကြည့်၍၊ မိုဃ်းတိမ်၌ ထင်ရှားသော ထာဝရ
၁၁ ဘုရား၏ ဘုန်း တော်ကို မြင်ရ ကြ၏။- ထာဝရ
ဘုရားကလည်း၊ ဣသရေလအမျိုးသားတို့သည်
အပြစ်တင်လျှက်၊ မြည်တမ်းသောအသံကို ငါ
၁၂ ကြားရပြီ။- ညဦးယံ၌ သင်တို့သည် အမဲသား
ကိုစားရကြလိမ့်မည်။ နံနက်ယံ၌လည်းမုန့်နှင့်
ဝရကြလိမ့်မည်။ ငါသည်သင်တို့၏ဘုရားသခင်
ထာဝရဘုရား ဖြစ်ကြောင်းကို သိကြလိမ့်မည်
ဟု၊ သူတို့ကို ပြော လော့ဟု၊ မောရှေအား မိန့်
တော်မူ၏။
၁၃ ညဦးယံ၌ငုံးငှက်တို့သည်တပ်ကိုအနှံ့အပြား
တက်လာကြ၏။ နံနက်ယံ၌လည်းတပ်ပတ်လည်၌
၁၄ အရပ်ရပ်တွင်နှင်းကျလျှက်ရှိ၏။- နှင်းတက်ပြီး
သောအခါ၊ နှင်းခဲကဲ့သို့သေးသေးလုံးလုံးအရာ
သည်၊ မြေမျက်နှာပေါ်မှာရှိရစ်လေ၏။- ထိုအ
ရာကိုဣသရေလအမျိုးသားတို့သည် မြင်သော
အခါ၊ အဘယ်အရာနည်းဟု မသိသောကြောင့်၊
တယောက်ကိုတယောက်မေးကြ၏။ မောရှေက
လည်း၊ ဤအရာသည်သင်တို့စားစရာဖို့၊ ထာဝ
၁၆ ရဘုရားပေးသနားတော်မူသောမုန့်ဖြစ်၏။- လူ
တိုင်းမိမိတဲ၌ရှိသောသူအရေအတွက်နှင့်အညီ၊
လူအသီးအသီးစားလောက်အောင်တယောက်
တဩမဲ့စီ သိမ်းယူကြလော့ဟု၊ ထာဝရဘုရား
၁၇ မိန့်တော် မူကြောင်းကို ပြန်ပြောလေ၏။- ဣသ
ရေလ အမျိုးသားတို့သည်ထိုသို့ပြု၍၊ အနည်း
၁၈ အများအလိုက် သိမ်းယူကြ၏။- ဩမဲတောင်း
နှင့်ခြင်ကြသောအခါ၊ များများရသောသူမပို၊
နည်းနည်းရသောသူမလို၊ အသီးအသီးတို့သည်
စားလောက်အောင်သိမ်းယူကြ၏။- မောရှေက
လည်း၊ နံနက်တိုင်အောင်အဘယ်သူမျှမကျန်
၂၀ စေနှင့်ဟုဆိုသော်လည်း၊- အချို့တို့သည်မော
ရှေစကားကိုနားမထောင်ဘဲ၊ နံနက်တိုင်အောင်
ကျန်စေသဖြင့်၊ ပိုးဖြစ်၍နံလေသော်၊ မောရှေ
၂၁ သည်အမျက်ထွက်၏။- ထိုသူအသီးအသီး တို့
သည်၊ နေ့တိုင်းမိမိတို့စားလောက်သမျှကိုသိမ်း
ယူကြ၏။ နေပူသောအခါအရေဖြစ်လေ၏။
၂၂ ခြောက်ရက် မြောက် သော နေ့ ၌၊ မုန့် နှစ်ဆ
တည်းဟူသော တယောက် နှစ်ဩမဲစီ သိမ်းရ
ကြ၏၊ ထို အကြောင်း ကို ပရိသတ် အုပ်အ
ပေါင်းတို့သည်မောရှေအားကြားပြောလေ၏။-
၂၃ သူကလည်း၊ နက်ဖန်နေ့သည် ထာဝရဘုရား
ရှေ့၌ သန့်ရှင်းသော ဥပုသ်နေ့၊ ငြိမ်ဝပ်စွာနေ
ရသောနေ့ဖြစ်၏။ မုန့်ကိုပေါင်းချင်သည်အတိုင်း
ပေါင်းကြလော့၊ ပြုတ်ချင်သည်အတိုင်း ပြုတ်
ကြလော့။ ကျန်သောအရာကိုနံနက်တိုင်အောင်
စောင့်၍ သိုထားကြလော့ဟု၊ ထာဝရဘုရား
၂၄ မိန့်တော်မူကြောင်းကို ပြန်ပြောလေ၏။- မော
ရှေမှာထားသည်အတိုင်း၊ နံနက်တိုင်အောင်သို
ထားကြ၏။ နံ့မြင်းနှင့်ကင်းလွတ်၏။ ပိုးလည်း
၂၅ မရှိ။- မောရှေကလည်း၊ ကျန်သောအရာကိုယ

ရှေ့စားကြလော့၊ ယနေ့သည် ထာဝရဘုရား၏
ဥပုသ်နေ့ဖြစ်၏၊ ယနေ့တွင်ထိုအရာကိုတော၌
၂၆ မတွေ့ရ။– ခြောက်ရက်ပတ်လုံး သိမ်းယူရကြ
၏၊ ဥပုသ်နေ့တည်းဟူသော၊ ခုနစ်ရက်မြောက်
၂၇ သောနေ့တွင်မရှိမတွေ့ရဟု ဆိုသော်၊– ခုနစ်
ရက်မြောက်သောနေ့၌၊ အချို့တို့သည် သိမ်း
ယူခြင်းငှါ ထွက်သွား ရာတွင်၊ ရှာ၍မတွေ့ရ
၂၈ ကြ။– ထာဝရဘုရားကလည်း၊ သင်တို့သည် ငါ
ပညတ်တရားများတို့ကို၊ အဘယ်မျှကာလပတ်
၂၉ လုံးငြင်းပယ်ကြလိမ့်မည်နည်း။–ထာဝရဘုရား
သည်ဥပုသ်နေ့ကို သင်တို့အားပေးတော်မူပြီ၊
ထို့ကြောင့် ခြောက်ရက် မြောက်သော နေ့၌
နှစ်ရက်အတွက်ရိက္ခာကိုပေးတော်မူ၏၊ လူတိုင်း
မိမိနေရာ၌နေစေ၊ ခုနစ်ရက်မြောက်သောနေ့၌၊
မိမိနေရာမှအထက်သူမျှမသွားစေနှင့်ဟု၊ မော
၃၀ ရှေအားမိန့်တော်မူ၏။– ထို့ကြောင့် လူများတို့
သည် ခုနစ်ရက် မြောက်သောနေ့၌ ငြိမ်ဝပ်စွာ
၃၁ နေကြ၏။– ဣသရေလ အမျိုးသားတို့သည် ထို
စားစရာကို မန္နဟုခေါ်ဝေါ်ကြ၏၊ နံနံစေ့ကဲ့သို့
ဖြစ်၍ ဖြူသော အဆင်းရှိ၏၊ ပျားရည်နှင့် ရော
သောမုန့်ကြွပ်နှင့်အရသာတူ၏။
၃၂ မောရှေကလည်း၊ သင်တို့ကို အဲဂုတ္တုပြည်မှ
ငါနှုတ်ဆောင်သောအခါ၊ တော၌သင်တို့အား
ကျွေးသောရိက္ခာကို၊ သင်တို့အမျိုးအစဉ်အဆက်
တို့သည် မြင်စေခြင်းငှါ၊ လူတို့အမှီ သိုထားရ
သော ဩမဲတဩမဲကိုဖြည့်ကြလော့ဟု၊ ထာဝ
ရဘုရား မိန့်တော် မူကြောင်းကို ပြန်ပြော လေ
၃၃ ၏။– အာရုန်အားလည်း၊ အိုးတလုံးကိုယူ
၍မန္နတဩမဲကိုအပြည့်ထည့်ပြီးလျှင်၊ သင်တို့
အမျိုးအစဉ်အဆက်တို့စောင့်စေခြင်းငှါ၊ ထာဝ
၃၄ ရဘုရားရှေ့တော်၌သိုထားလော့ဟု ဆို၍၊–မော
ရှေကို ထာဝရဘုရား မှာထားတော်မူသည် အ
တိုင်း၊ ထိုမန္နကိုအာရုန်စောင့်စေခြင်းငှါ၊ သက်
၃၅ သေတော်ရှေ့မှာသိုထားလေ၏။– ဣသရေလအ
မျိုးသားတို့သည် လူနေရာပြည်သို့ မရောက်မှီ
တိုင်အောင်၊ အနှစ်လေးဆယ်ပတ်လုံး မန္နကို
စားကြ၏၊ ခါနာန်ပြည်နယ်နိမိတ်သို့မရောက်မှီ
၃၆ တိုင်အောင်မန္နကိုစားကြ၏။–ဩမဲမူကား၊ ဧဖာ
ဆယ်စုတစုဖြစ်သတည်း။

၁၇

၁ ဣသရေလအမျိုးသားပရိသတ်အပေါင်းတို့
သည်၊ ထာဝရဘုရားမိန့်တော်မူသည်အတိုင်း၊
ဇိန်တောထဲကထွက်၍ ခရီးသွားသဖြင့်၊ ရေဖိ
ဒိမ်အရပ်၌စားခန်းချကြ၏၊ ထိုအရပ်၌လူများ
၂ သောက်စရာရေမရှိ။– ထို့ကြောင့်လူများတို့က၊
သောက်စရာရေပေးပါဟုဆို၍၊ မောရှေကိုရန်တွေ့
ကြ၏၊ မောရှေကလည်း၊ ငါ့ကိုအဘယ်ကြောင့်
ရန်တွေ့ကြသနည်း၊ ထာဝရဘုရားကိုအဘယ်
၃ ကြောင့်စုံစမ်းကြသနည်းဟုဆိုလေ၏။– လူများ
တို့သည်ရေငတ်၍၊ မောရှေကိုအပြစ်တင်ခြည်
တမ်းလျက်၊ ငါတို့မှစ၍သားသမီးတိရစ္ဆာန်တို့
ကိုအငတ်ထား၍သတ်ခြင်းအလိုငှါ၊ အဲဂုတ္တု
ပြည်မှအဘယ်ကြောင့် ဆောင်ခဲ့သနည်းဟုဆို
၄ ကြ၏။– ထိုအခါ၊ မောရှေသည် ထာဝရဘုရား
အားလျှောက်၍၊ ဤလူတို့အားအကျွန်ုပ်သည်
အဘယ်သို့ပြုရပါမည်နည်း၊ အကျွန်ုပ်ကိုခဲနှင့်
၅ ပစ်လု ကြပါပြီဟု လျှောက် လေ၏။– ထာဝရ
ဘုရားကလည်း၊ လူများရှေ့သို့သွား၍၊ ဣသရေ
လအမျိုး အသက်ကြီးသူတို့ကိုခေါ်လော့၊ မြစ်
ကိုရိုက်သောသင်၏လှံတံကိုကိုင်လျက်၊ ဟော
၆ ရပ်အရပ်သို့သွားလော့။– ထိုအရပ်၌ ရှိသော
ကျောက် ပေါ်တွင် သင့်ရှေ့မှာ ငါရပ်နေမည်။
သင်သည် ထိုကျောက်ကို ရိုက်ရမည်။ လူများ
သောက်စို့ထိုကျောက်ထဲကရေထွက်လိမ့်မည်
ဟုမောရှေအား မိန့်တော်မူ၏၊ မောရှေ သည်
လည်း၊ ဣသရေလအမျိုး အသက်ကြီးသူတို့ရှေ့
၇ မှာထိုသို့ပြုလေ၏။– ဣသရေလ အမျိုးသားတို့
က၊ ထာဝရဘုရားသည် ငါတို့တွင်ရှိသလောမရှိ
သလောဟု၊ ထာဝရ ဘုရားကို စုံစမ်း၍ ရန်တွေ့
သော အကြောင်းကြောင့်၊ ထိုအရပ်ကို မဿာ
နှင့်မေရိဘဟုသမုတ်သတည်း။
၈ ထိုအခါအာမလက်လူတို့သည်လာ၍၊ ရေဖိ
ဒိမ်အရပ်၌ ဣသရေလ လူတို့ကို စစ်တိုက်ကြ
၉ ၏။– မောရှေကလည်း၊ လူတို့ကိုရွေး၍ အာမ
လက် လူတို့ကို စစ်တိုက် ခြင်းငှါ ထွက်သွား
နက်ဖန်နေ့၌ဘုရားသခင်၏လှံတံကိုကိုင်လျက်၊
တောင်ထိပ် ပေါ်မှာ ငါရပ်နေမည်ဟု ယောရှု
၁၀ အား ဆို၏။– မောရှေ မှာလိုက်သည် အတိုင်း
ယောရှုပြု၍၊ အာမလက်လူတို့ကိုစစ်တိုက်လေ
၏၊ မောရှေ၊ အာရုန်၊ ဟုရတို့သည် တောင်ထိပ်
၁၁ ပေါ်သို့တက်ကြ၏။– မောရှေသည် လက်ကိုချီ
သောအခါ၊ ဣသရေလလူတို့သည် နိုင်ကြ၏၊
လက်ကိုချသောအခါ၊ အာမလက်လူတို့ သည်
၁၂ နိုင်ကြ၏။– သို့ရာတွင် မောရှေ၏ လက်သည်

ညောင်းသောကြောင့်၊ သူတို့သည်ကျောက်ကို
ယူ၍မောရှေကိုထိုင်စေပြီးလျှင်၊ အာရုန်နှင့်ဟု
ရတို့သည် တယောက်တဖက်နေ၍၊ သူ၏လက်
ကိုမကြွ၏၊ သို့ဖြစ်၍ နေဝင်သည်တိုင်အောင်၊
၁၃ သူ၏ လက်တို့သည် အမြဲ နေလေ၏၊- ယောရှု
သည်လည်း အာမလက်မင်းနှင့် လူများတို့ကို၊
၁၄ ဓား လက်နက်ဖြင့် လုပ်ကြလေ၏၊- ထာဝရ
ဘုရားကလည်း၊ ဤအမှုကို အောက်မေ့စရာဘို
စာရေးထား၍၊ ယောရှုအား ဖတ်ရွတ်လော့၊
အကြောင်းမူကား၊ ကောင်းကင်အောက်၌အာ
မလက်၏အမှတ်ရှိသမျှကို ငါပယ်ရှင်းမည်ဟု၊
၁၅ မောရှေ အား မိန့်တော်မူ၏၊- မောရှေ သည်
လည်း၊ ယဇ် ပလ္လင်ကို တည်၍၊ ယေဟောဝါ
၁၆ နိဿိထု သမုတ်လေ၏၊- အကြောင်း မူကား၊
အာမလက် ၏ မျိုး၏လက်သည် ထာဝရဘုရား
၏ရာဇပလ္လင်တော်၏ရန်ဘက်ဖြစ်သောကြောင့်၊
ထာဝရဘုရား သည် ကာလအစဉ် အဆက်၊
အာမလက်အမျိုးကိုစစ်တိုက်တော် မူလိမ့်မည်
ဟုဆိုသတည်း။

၁၈

၁ ဘုရားသခင်သည်မောရှေမှစ၍၊ ကိုယ်တော်
၏လူ ဣသရေလ အမျိုးအဘို့ ပြုတော်မူသမျှကို
၎င်း၊ ထာဝရဘုရားသည် ဣသရေလ အမျိုးကို
အဲဂုတ္တုပြည်မှ နှုတ်ဆောင်တော်မူကြောင်းကို
၎င်း၊ မိဒျန်ယဇ်ပုရောဟိတ်ဖြစ်သောမောရှေ၏
ယောက္ခမ၊ ယေသရော ကြားသည် ရှိသော်၊-
၂၊၃ မောရှေလွှတ်ခဲ့သောမယားနှင့်၊- သူ၏သားနှစ်
ယောက်ကိုယူ၍ သွားလေ၏၊ သားတယောက်
ကား၊ဂေရရှုံအမည်ရှိ၏၊အကြောင်းမူကား၊ငါ
သည်တကျွန်းတနိုင်ငံ၌ဧည့်သည်အာဂန္တုဖြစ်
၄ ရပြီဟု အဖဆို သတည်း။- သား တ ယောက်
ကား၊ ဧလျေဇာအမည်ရှိ၏၊ အကြောင်းမူကား၊
ငါ့အဘ၏ ဘုရားသခင်သည် ငါ့ကို မစ၍၊
ဖာရောဘုရင်၏ ဓားမှကယ်လွှတ်တော်မူပြီဟု
၅ ဆိုသတည်း။- မောရှေ၏ယောက္ခမယေသရော
သည်မောရှေမယားနှင့်သားတို့ကိုယူ၍၊ တော
၌ဘုရားသခင်၏တောင်တော်နား၊ မောရှေတဲ
၆ ချရာအရပ်သို့ရောက်လာလျှင်၊- ကိုယ်တော်၏
ယောက္ခမ ယေ သရော နှင့်၊ ကိုယ် တော်၏ မ
ယား၊သားနှစ်ယောက်တို့သည် ကိုယ်တော်ထံ
သို့ရောက်လာပါပြီဟု၊ မောရှေအားကြားပြော
၇ သော်၊-မောရှေသည်ယောက္ခမကိုခရီးဦးကြိုပြု
ခြင်းငှါ ထွက်၍၊ ဦးချ နမ်းရှုပ်လျက်၊ ကျန်းမာ
ကြောင်းကိုတယောက်နှင့်တယောက်မေးမြန်း
၈ လျက်၊တဲသို့ဝင်ကြ၏၊-ထာဝရဘုရားသည် ဣ
သရေလ အမျိုးအတွက်၊ ဖာရောဘုရင်နှင့် အဲ
ဂုတ္တုလူတို့၌ ပြုတော်မူသမျှကို၎င်း၊ ထမ်းခရီး
တွင်ခံရသော ဆင်းရဲဒုက္ခ အလုံးစုံကို၎င်း၊ ထို
ဆင်းရဲဒုက္ခမှ ထာဝရဘုရား ကယ်လွှတ်တော်
မူကြောင်းကို၎င်း၊မောရှေသည်ယောက္ခမအား
၉ ကြားပြောလေ၏၊- ထာဝရဘုရားသည် ဣသ
ရေလအမျိုးကိုအဲဂုတ္တုလူတို့လက်မှကယ်နှုတ်
၍၊ပြုတော်မူသောကျေးဇူးကြောင့် ယေသရော
၁၀ သည်ဝမ်းမြောက်လျက်၊- အဲဂုတ္တုလူတို့လက်
မှ၎င်း၊ ဖာရော ဘုရင်လက်မှ၎င်း၊ သင့်ကိုကယ်
နှုတ် တော်မူ ထသော၊ လူများ တို့ကို အဲဂုတ္တု
လူတို့လက်မှ ကယ်နှုတ်တော်မူသော၊ ထာဝရ
ဘုရားသည် မင်္ဂလာ ရှိတော် မူစေ သတည်း။-
၁၁ ထာဝရဘုရားသည်အခြားသောဘုရား ရှိသမျှ
တို့ ထက်၊ သာ၍ ကြီးမြတ်တော် မူကြောင်း ကို
ယခုငါသိ၏၊အကြောင်းမူကား၊လူတို့သည်မာန
ထောင်လွှားသောအမှုအရာတွင်၊ထာဝရဘုရား
၁၂ နိုင်တော်မူ၏ဟုဆိုပြီးမှ၊- မောရှေ၏ယောက္ခမ
ယေသရောသည်၊ မီးရှို့ရာယဇ်နှင့် ဘုရားသ
ခင်အဘို့ယဇ်များကိုဆောင်ခဲ့၍၊ အာရုန်နှင့်ဣ
သရေလအမျိုး အသက်ကြီးသူ အပေါင်း တို့
သည်၊မောရှေ၏ယောက္ခမနှင့်အတူ၊ ဘုရားသ
ခင်ရှေ့တော်၌အစာစားခြင်းငှါလာကြ၏။
၁၃ နက်ဖန်နေ့၌မောရှေသည်၊ လူများကိုတရား
စီရင်ခြင်းငှါထိုင်လေ၏၊ နံနက်မှစ၍ ညဦးတိုင်
အောင်၊ လူများတို့သည်၊ မောရှေရှေ့မှာနေကြ
၁၄ ၏။- မောရှေသည် လူများတို့အား ပြုသမျှကို
ယောက္ခမ မြင်လျှင်၊ ဤလူ များတို့အားပြုသော
အမှုအဘယ်သို့နည်း။ သင်သည် တယောက်
တည်း ထိုင်လျက်၊ လူအပေါင်းတို့သည်နံနက်မှစ
၍ညဦးတိုင်အောင်၊သင့်ရှေ့မှာအဘယ်ကြောင့်
၁၅ နေရကြသနည်းဟုဆို၏။- မောရှေကလည်း။
ဤသူတို့သည် ဘုရားသခင်၏ အလိုတော်ကို ခံ
လို၍၊ ကျွန်ုပ်ထံသို့ လာသောကြောင့် ဤသို့ဖြစ်
၁၆ ၏။- သူတို့သည်အမှုရှိလျှင်ကျွန်ုပ်ထံသို့လာ၍၊
သူတို့၏အမှုကိုကျွန်ုပ်ဆုံးဖြတ်ရ၏၊ဘုရားသခင်
၏ပညတ်တရားများကိုသင်ပြရ၏ဟု ယောက္ခမ
၁၇ အားပြောလျှင်၊-ယောက္ခမက၊သင်ပြုသောအ
၁၈ မှုသည် မတော်မသင့်ဖြစ်၏။- သင်မှစ၍သင်၌

ပါသော ဤလူများတို့သည်၊ အမှန်အား ပျော့
ကြလိမ့်မည်၊ ဤအမှုသည်သင်၌ အလွန်လေး
၏၊ တယောက်တည်း မတတ်နိုင်သောအမှုဖြစ်
၁၉ ၏။- ငါ စကားကို နားထောင်လော့၊ ငါ အကြံ
ပေးမည်၊ ဘုရားသခင်သည်လည်း၊ သင့်ထံ
၌ရှိတော်မူလိမ့်မည်၊ သင်သည်ဘုရားသခင်နှင့်
ဆိုင်သော အမှု၌၊ လူများတို့၏ အမှုကို ဆောင်
လျက်၊ဘုရားသခင်အထံတော်သို့ဝင်၍လျှောက်
၂၀ ရမည်။-သူတို့အားလည်း၊ ပညတ်တရားတော်
များကို သင်ချရမည်၊ သူတို့သွားရာလမ်း၊ ပြု
၂၁ ရသော အမှုကိုလည်း ပြရမည်။- ထိုမှတပါး၊
ဘုရား သခင်ကို ကြောက် ရွံ့လျက်၊ သစ္စာ နှင့်
ပြည့်စုံ လျက်၊ လောဘကို ရွံရှာလျက်၊ တတ်
စွမ်းနိုင်သောသူတို့ကို၊ လူအပေါင်းတို့အထဲက
ရွေးကောက်၍၊တထောင်အုပ်၊တရာအုပ်၊ ငါး
ဆယ် အုပ်၊ တဆယ် အုပ် အရာ ၌ ခန့် ထား ရ
၂၂ မည်။-ထိုသူတို့သည် ခပ်သိမ်းသောအချိန်၌လူ
များတို့ကို တရားစီရင်ကြစေ၊ ကြီးသောအမှု၌
သင်၏အယူကိုခံကြစေ၊ ငယ်သောအမှုကို အ
လိုလိုစီရင်ကြစေ၊ သို့ဖြစ်လျှင်၊ သူတို့သည်ဝိုင်း
ညီ၍အမှုထမ်းသဖြင့်၊သင်သည်သက်သာလိမ့်
၂၃ မည်။- ထိုသို့ ဘုရားသခင် အခွင့်နှင့် ပြုလျှင်၊
သင်သည်ခိုင်ခံ့လိမ့်မည်၊ဤလူအပေါင်းတို့သည်
မိမိနေရာပြည်သို့၊ ငြိမ်ဝပ်စွာသွားကြလိမ့်မည်
၂၄ ဟုပြောဆို၏။- မောရှေသည်လည်း၊ယောက္ခမ
၏ စကားကို နားထောင်၍၊ စကားရှိသည် အ
၂၅ တိုင်း ပြုလျက်၊- တတ် စွမ်းနိုင်သော သူတို့ကို
ဣသရေလအမျိုးထဲက ရွေးကောက်၍၊ လူတ
ထောင်အုပ်၊ တရာအုပ်၊ ငါးဆယ်အုပ်၊ တဆယ်
အုပ်၊ အသီးအသီး ခေါင်းအရာ၌ ခန့်ထားလေ
၂၆ ၏။- ထိုသူ တို့ သည် ခပ် သိမ်းသော အချိန် ၌၊
လူတို့ကို တရား စီရင်ကြ၏၊ ခက် သော အမှု ၌
မောရှေ၏ အယူကိုခံကြ၏၊ လွယ်သော အမှုကို
၂၇ အလိုလိုစီရင်ကြ၏။- ထိုနောက်၊ မောရှေသည်
ယောက္ခမ သွား ရသော အခွင့်ကို ပေး၍၊ သူ
သည်မိမိနေရာသို့သွားလေ၏။

၁၉

၁ ဣသရေလ အမျိုး သား တို့သည်၊ အဲဂုတ္တု
ပြည်မှထွက်သွားသောနောက်၊ တတိယလတ
၂ ရက်နေ့၌သိနာတောသို့ရောက်ကြ၏။-ရေဖိဒိမ်
အရပ်ကထွက်သွားပြီးမှ၊ သိနာတောသို့ရောက်
၃ ၍၊ထိုတော၌တောင်ရှေ့မှာ တပ်ချကြ၏။- မော
ရှေသည် ဘုရားသခင် ထံတော်သို့ တက်သွား
လျှင်၊ ထာဝရဘုရားသည် တောင်ပေါ်က ခေါ်
တော်မူ၍၊သင်သည်ယာကုပ်အမျိုး၊ဣသရေလ
သားတို့အား ပြန်ပြောရသော အမိန့်တော်ဟူမူ
၄ ကား၊- ငါသည် အဲဂုတ္တု လူတို့၌ ပြုသော အ
ကြောင်း၊ သင်တို့ကို ရွှေလင်းတ အတောင် ဖြင့်
ထမ်း၍၊ ကိုယ်တိုင်သိမ်းယူသောအကြောင်းကို၊
၅ သင်တို့သည်သိမြင်ရကြပြီ။-ထိုကြောင့်ယခုတွင်
သင်တို့သည် ငါ စကားကို အမှန် နားထောင်၍၊
ငါပဋိညာဉ်ကိုစောင့်ရှောက်လျှင်၊ အခြားသော
လူမျိုး တကာ တို့ထက်၊ သင် တို့ သည် ငါ ပိုင်
ဆိုက်သောဘဏ္ဍာတော်ဖြစ်ရကြလိမ့်မည်။မြေ
၆ ကြီးရှိသမျှသည်ငါ၏ဥစ္စာဖြစ်၏။-သင်တို့သည်
လည်း၊ မင်းစည်းစိမ် ရှိသော ယဇ်ပုရောဟိတ်
မျိုး၊ သန့်ရှင်းသောလူမျိုးဖြစ်ရကြလိမ့်မည်ဟူ
သောအမိန့်တော်ကို၊ ဣသရေလအမျိုးသားတို့
အားဆင့်ဆိုလော့ဟုမိန့်တော်မူ၏။
၇ မောရှေသည် ပြန်လာ၍၊ လူတို့တွင် အသက်
ကြီးသူတို့ကို ခေါ်ပြီး လျှင်၊ ထာဝရ ဘုရားမှာ
ထားတော် မူသော စကား အလုံးစုံ တို့ကို ပြန်
၈ ပြောလေ၏။- လူအပေါင်းတို့ကလည်း၊ထာဝရ
ဘုရားမိန့်တော်မူသမျှတို့ကိုအကျွန်ုပ်တို့သည်ပြု
ပါမည်ဟု၊တညီတညွတ်တည်း ပြန်ပြောကြ၏။
မောရှေသည်လည်း သူတို့၏စကားကို၊ ထာဝရ
၉ ဘုရား အား ပြန် လျှောက် လေ၏။- ထာဝရ
ဘုရားကလည်း၊ကြည့်ရှုလော့၊သင်နှင့်ငါပြော
သောအခါ၊လူများတို့သည်ကြား၍၊ အစဉ်အ
မြဲသင့်ကိုယုံမည်အကြောင်း၊မိုဃ်းတိမ်ထူထဲ၌
သင့်ထံသို့ငါလာမည်ဟု၊မောရှေအားမိန့်တော်
မူ၏၊မောရှေသည်လည်း၊ထာဝရဘုရား၏စကား
တော်ကို၊လူများတို့အား ပြန်ပြောလေ၏၊
၁၀ ထာဝရဘုရားကလည်း၊လူတို့ရှိရာသို့သွား၍၊
ယနေ့နှင့်နက်ဖန်၌ သူတို့ကိုသန့်ရှင်းစေလော့၊
၁၁ သူတို့အဝတ်ကိုလျှော်စေ၍၊- သုံးရက်မြောက်
သောနေ့၌၊ အသင့်ရှိနေစေလော့၊ အကြောင်းမူ
ကား၊သုံးရက်မြောက်သောနေ့၌၊ထာဝရဘုရား
သည်လူအပေါင်းတို့ရှေ့၊ သိနာ တောင်ပေါ်သို့
၁၂ ဆင်းသက်တော်မူမည်။- လူတို့မကျော်ရသော
အထိးအကာတို့ကို တောင်ပတ်ထည်၌စီရင်၍၊
သင်တို့သည်တောင်ပေါ်သို့မတက်၊ တောင်ခြေ
ရင်းကိုမထိရအောင်၊သတိပြုကြဟုပြောလော့၊
တောင်ကိုထိမိသောသူ မည်သည်ကား၊ ဧကန်

၁၃ အမှန်အသေခံစေ။ ထိုသူကိုလက်နှင့် မထိရ၊
အကယ်စင်စစ် ကျောက်ခဲနှင့် ပစ်ရမည်။ သို့မ
ဟုတ်မြှားနှင့်ပစ်ရမည်၊လူဖြစ်စေ၊တိရိစ္ဆာန်ဖြစ်
စေ၊အသက်မရှင်ရ၊ တံပိုးသည်ကြာကြာမြည်
သောအခါ၊ လူများတို့သည်တောင်သို့လာရကြ
၁၄ မည်ဟု၊ မောရှေအား မိန့်တော်မူ၏။— မောရှေ
သည်တောင်ပေါ်မှ၊ လူတို့ရှိရာသို့ဆင်းသက်၍၊
သူတို့ကို သန့်ရှင်းစေ၏၊ သူတို့သည်မိမိအဝတ်
၁၅ များကိုလျှော်ကြ၏။—မောရှေကလည်း၊သုံးရက်
မြောက်သောနေ့၌အသင့်ရှိစေကြလော့၊မယား
ကိုမချဉ်းကြနှင့်ဟုလူတို့အားဆို၏။
၁၆ သုံးရက် မြောက် သော နေ့၊ နံနက် အချိန်၌
တောင်ပေါ်မှာမိုဃ်းခြိမ်းခြင်း၊ လျှပ်ပြက်ခြင်း
နှင့်တကွ၊ မိုဃ်းတိမ်ထိုင် ထွန်းမိုး ၍၊ ကြီး
သောအသံနှင့်တံပိုးမြည်သဖြင့်၊ တပ်၌ရှိသော
၁၇ လူအပေါင်းတို့သည် တုန်လှုပ်ကြ၏။— မောရှေ
သည်လည်းဘုရားသခင်နှင့်တွေ့စေခြင်းငှါ၊ လူ
များတို့ကိုတပ်ထဲကဆောင်ခဲ့သဖြင့်၊သူတို့သည်
၁၈ တောင်ခြေရင်းအောက်၌ရပ်နေကြ၏။—ထာဝရ
ဘုရားသည် မီးဖြင့် သွမ်းလျက်၊ သိနာတောင်
ပေါ်သို့ ဆင်းသက်တော် မူသောကြောင့်၊ တ
တောင်လုံးမီးခိုးထွက်လေ၏၊ မီးခိုးသည်လည်း
မီးဖို၏ မီးခိုးကဲ့သို့တက်၍၊ တတောင်လုံးမြိုင်း
၁၉ မြသွှင်သော၏။— တံပိုးမြည်သံသည်ကြာကြာ
မြဲ၍လျက်၊ အသံတိုး၍ကြီးသောအခါ၊မောရှေ
သည်ခေါ်၍၊ဘုရားသခင်သည်စကားသံနှင့်ထူး
၂၀ တော်မူ၏။— ထာဝရ ဘုရားသည်လည်း၊ သိနာ
တောင်ထိပ် ပေါ်သို့ ဆင်းသက်၍၊ မောရှေကို
တောင်ထိပ် ပေါ်သို့ခေါ်တော်မူလျှင်၊ မောရှေ
၂၁ သည်တက်လေ၏။— ထာဝရဘုရား ကလည်း၊
လူတို့သည် ကြည့်ရှုခြင်းငှါ ထာဝရဘုရား ထံ
သို့ ကျော်ဝင်၍၊ အများတို့သည် သေကြ ထိမ့်
မည်ဟု၊ မိုးမိစ်စရာရှိသောကြောင့် ဆင်း၍ထ
၂၂ တိပေးလော့။— ထာဝရဘုရားထံသို့ ချဉ်းကပ်
သော ယဇ်ပုရောဟိတ်တို့သည်လည်း၊ ကိုယ်
ကိုကိုယ်သန့်ရှင်းစေရမည်၊ သို့မဟုတ်ထာဝရ
ဘုရားသည်ဖေါက်ခွဲတော်မူမည်ဟု၊ မောရှေ
၂၃ အား မိန့်တော်မူ၏။— မောရှေကလည်း၊ လူတို့
သည် သိနာတောင်သို့ မတက်နိုင်ကြပါ။ အ
ကြောင်းမူကား၊ မကျော်ရသော အဆုံး အကာ
တို့ကို စောင့်ပတ်သည်၌ မိရင်၍၊ သန့်ရှင်းစေ
တော့ဟု ကိုယ်တော် ကျွန်ုပ်တို့အား မှာထားတော်မူပြီ။ ထာဝရဘုရား
၂၄ အား ပြန်လျှောက်လေ၏။— ထာဝရ ဘုရားက
ထဦး၊ဆင်း၍သွားလော့၊သင်နှင့်အာရုန်သည်လျှင်
တက်ရမည်၊ ယဇ်ပုရောဟိတ်များ၊လူများတို့
သည်ထာဝရဘုရားထံသို့တက်ခြင်းငှါ၊ မကျော်
မဝင်စေနှင့်၊ သို့မဟုတ်သူတို့ကိုဖေါက်ခွဲတော်
၂၅ မူမည်ဟုမိန့်တော်မူ၏။—မောရှေသည်လည်း၊လူ
များတို့ရှိရာသို့ဆင်း၍ပြောပြောလေ၏။

၂၀

၁ ထိုအခါ ဘုရားသခင်မိန့်တော်မူသောစကား
၂ များတည်းဟူမူကား၊—ငါသည်သင့်ကိုကျွန်ခံနေရာဖြစ်
ရသောအဲဂုတ္တုပြည်မှ ကယ်နှုတ် ဆောင်ယူခဲ့ ပြီးသော၊
၃ သင်၏ ဘုရားသခင်ထာဝရဘုရားဖြစ်၏။— ငါမှ
တပါး၊ အခြားသောဘုရားကို မကိုးကွယ်နှင့်။—
၄ အထက် မိုဃ်းကောင်းကင်၌ ၎င်း၊ အောက်အ
ရပ်မြေကြီးပေါ်၌၎င်း၊ မြေကြီးအောက်ရေထဲ၌
၎င်းရှိသောအရာနှင့်ပုံသဏ္ဌာန်တူအောင်၊ ရုပ်
၅ တုဆင်းတုကိုကိုယ်အဖို့မထုစ်နှင့်၊—ဦးမချ၊ဝတ်
မပြုနှင့်၊အကြောင်းမူကား၊ သင်၏ဘုရားသခင်၊
ငါထာဝရဘုရားသည် ထင်ရှားအပြစ်ရှိသည်ကို
ထိုက်လွယ်သောဘုရား၊ ငါကိုမုန်းသောသူတို့၏အ
မျိုးအစဉ်အဆက်၊ တတိယအဆက်၊ စတုတ္ထ
အဆက်တိုင်အောင်၊ အဘတို့၏အပြစ်ကိုသားတို့
၆ ၌ ဆပ်ပေး မီရင်သော ဘုရား၊ ငါကိုချစ်၍ ငါ
ပညတ်တို့ကို ကျင့်သောသူတို့၏ အမျိုးအစဉ်
အဆက်အထောင်အသောင်းတိုင်အောင်၊ ကရု
၇ ဏာကိုပြုသောဘုရားဖြစ်၏။— သင်၏ဘုရားသ
ခင် ထာဝရဘုရား၏ နာမ တော်ကို၊ မှားသောနှင့်
ဆိုင်၍မမြွက်မဆိုနှင့်၊အကြောင်းမူကား၊ နာမ
တော်ကိုမှားသောနှင့်ဆိုင်၍ မြွက် ဆိုသောသူကိုအ
၈ ပြစ်မရှိဟုထာဝရဘုရားမှတ်တော်မမူ။—ဥပုသ်
နေ့ကိုသန့်ရှင်းစေခြင်းငှါ၊ထိုနေ့ရက်ကိုအောက်မေ့
၉ မေ့လော့။— ခြောက်ရက်ပတ်လုံး အလုပ်မျိုးကို
၁၀ ကြိုးစား၍လုပ်ဆောင်လော့။— သတ္တမနေ့ရက်
သည်သင်၏ဘုရားသခင်ထာဝရဘုရား၏ဥပုသ်
နေ့ဖြစ်၏၊ ထိုနေ့၌ သင်မှစ၍ သင်၏ သားသမီး၊
ကျွန်ယောကျ်ားမိန်းမ၊ တိရိစ္ဆာန်၊သင်၏တံခါးအ
တွင်း၌နေသောဧည့်သည်အာဂန္တုသည်တဆိတ်
၁၁ မျှမလုပ်ရ။— အကြောင်းမူကား၊ ထာဝရ ဘုရား
သည်မိုဃ်းကောင်းကင်၊ မြေကြီး၊သမုဒ္ဒရာ၊အ
ရပ်ရပ်၌ရှိသမျှတို့ကို၊ခြောက်ရက်တွင်ဖန်ဆင်း
၍၊သတ္တမနေ့ရက်၌ငြိမ်ဝပ်စွာနေတော်မူ၏၊ထို
ကြောင့်ထာဝရဘုရားသည်၊ သတ္တမနေ့ရက်ကို

၁၂ ကောင်းကြီးပေး၍၊ သန့်ရှင်းစေတော်မူ၏။-သင်
၏ဘုရားသခင်ထာဝရဘုရားပေးသနားတော်မူ
သောပြည်၌၊ သင်၏အသက် တာရှည်မည်အ
၁၃ ကြောင်း၊ သင်၏မိဘကိုရိုသေစွာပြုလော့။-လူအ
၁၄ သက်ကို မသတ်နှင့်။- သူ့မယားကို မပြစ်မှား
၁၅၊၁၆ နှင့်။- သူ့ဥစ္စာကို မခိုးနှင့်။- ကိုယ်နှင့် စပ်
ဆိုင်သောသူတဘက်၌ မမှန်သောသက်သေကိုမ
၁၇ ခံနှင့်။-ကိုယ်နှင့်စပ်ဆိုင်သောသူ၏အိမ်ကိုတပ်
မက်လိုချင်သောစိတ် မရှိစေနှင့်၊ ကိုယ်နှင့်စပ်
ဆိုင်သော သူ၏ မယား၊ သူ၏ကျွန် ယောက်ျား
မိန်းမ၊ နွား၊ မြည်း၍၊ ကိုယ်နှင့်စပ်ဆိုင်သောသူ၏
ဥစ္စာတစုံတခုကိုမျှ၊တပ်မက်လိုချင်သောစိတ်မ
ရှိစေနှင့်ဟုမိန့်တော်မူ၏။
၁၈ လူအပေါင်းတို့သည် မိုဃ်းခြိမ်းခြင်း၊ လျှပ်
ပြက်ခြင်း၊ တံပိုးသံမြည်ခြင်း၊ တောင်ထဲကမီး
မီးခိုးထွက်ခြင်း အကြောင်းအရာတို့ကို မြင်သော
အခါ၊ ကြောက်သောကြောင့် ရွှေ့၍ အဝေး၌
၁၉ ရပ်နေကြ၏။- မောရှေကိုလည်း၊ အကျွန်ုပ်တို့
အား ကိုယ်တော် မိန့်တော်မူပါ၊ အကျွန်ုပ်တို့
သည် နား ထောင်ပါမည်၊ အကျွန်ုပ် တို့ အား
ဘုရားသခင်မိန့်တော်မမူပါစေနှင့်၊အကျွန်ုပ်တို့
သည်သေမည်ကို စိုးရိမ်ပါသည်ဟု လျှောက်
၂၀ ဆိုကြ၏။- မောရှေကလည်း၊ မစိုးရိမ်ကြနှင့်၊
သင်တို့ကို စုံစမ်းခြင်းငှါလည်း၊ သင်တို့သည်ပြစ်
မှားခြင်းနှင့် လွတ်မည်အကြောင်း၊ ကိုယ်တော်
ကိုကြောက်စေခြင်းငှါလည်း၊ ဘုရားသခင်ကြွလာ
၂၁ တော်မူပြီဟု၊ လူများတို့အား ပြောဆို၏။- လူ
များတို့သည်ထည်း၊အဝေး၌ ရပ်နေကြ၏၊ မော
ရှေမူကား၊ ဘုရား သခင် ရှိတော် မူရာ ထူထပ်
၂၂ သောမှောင်မိုက်သို့ ချဉ်းကပ်လေ၏။- ထာဝရ
ဘုရားကလည်း၊ဣသရေလအမျိုးသားတို့အား
ပြန်ပြော ရသော စကား ဟူမူကား၊ ငါသည်
ကောင်းကင်ဘုံမှသင်တို့နှင့် စကားဆက်ကြောင်း
၂၃ ကို၊သင်တို့သည် သိမြင်ကြပြီ။- ငါကိုးကွယ်
သောအမှု၌ကိုယ်သုံးဘို့ ငွေဘုရား ရွှေဘုရားကို
၂၄ မလုပ်ရ။- မြေဖို့ မြေယဇ်ပလ္လင်ကို တည်ရ
မည်၊ ထိုပလ္လင်ပေါ်မှာ သင်၏မီးရှို့သောယဇ်၊
မိဿဟာယ ယဇ်တည်း ဟူသော၊ သင်၏သိုး
နွားတို့ကို ယဇ်ပူဇော်ရမည်၊ အခွင့်ရှိ၍၊ ငါ
နာမကိုကိုးကွယ်ရာအရပ်ရပ်သိမ်းဘို့၌၊ သင့်ထံ
၂၅ သို့ငါကြွ လာ၍ ကောင်းကြီး ပေးမည်။- သင်
သည်ကျောက်ယဇ်ပလ္လင်ကိုအဖို့တည်လျှင်၊

ဆစ် သော ကျောက်ကို မတည်ရ၊ ထိ တန် ဆာ
ပါ၍တည်သောယဇ်ပလ္လင်သည် ညစ်ညူးခြင်း
၂၆ ရှိ၏။- သင်၌ ရှက်စရာ အကြောင်း မထင်မပေါ်
စေခြင်းငှါ၊ ယဇ်ပလ္လင်ပေါ်သို့ လှေကားဖြင့် မ
တက်ရဟုမိန့်တော်မူ၏။

၂၁

၁ ထာဝရဘုရားကလည်း၊ သင်သည် ဣသရေ
လအမျိုးသားတို့၌ စီရင်ရသော စီရင်ထုံးတို့ ဟူမူ
၂ ကား၊- ဟေဗြဲ အမျိုး ဖြစ်သော ကျွန်ကို ဝယ်
လျှင်၊ ခြောက်နှစ်သာ အစေကျွန် ခံစေရမည်၊
သတ္တမနှစ်ရောက်သော်၊ ကိုယ်ဖိုးကို မတောင်း
၃ ဘဲလွတ်ရမည်။- ကျွန်ခံစကတယောက်တည်း
ခံလျှင်၊ တယောက်တည်းထွက်ရမည်၊ ထိုင်မ
ယားနှင့်ယောက်ခံလျှင်၊မယားနှင့်တကွထွက်
၄ စေရမည်။- သို့မဟုတ် သခင် ပေး စား သော မ
ယားရှိ၍၊ ထိုမယားသည်သားသမီးကို ဖွားမြင်
လျှင်၊ မယားနှင့်သားသမီးတို့ကိုသခင်ပိုင်ရမည်၊
ကျွန်မူကား၊ တယောက်တည်း ထွက်ရမည်။-
၅ သို့မဟုတ်ကျွန်က၊ကျွန်တော်သခင်နှင့်၊မယား
သား သမီးတို့ကို ကျွန်တော် ချစ်ပါ၏၊ မထွက်မ
သွားလိုပါဟု အတည့်အထင်း ပြောဆိုလျှင်၊-
၆ သခင်သည် ဘုရားသခင် ရှေ့တော်သို့၎င်း၊ အိမ်
တံခါးတိုင်သို့၎င်း၊ ဆောင်ယူ၍၊ နားရွက်ကိုစူး
ဖြင့် ဖောက်ပြီးမှ၊ ထိုကျွန်သည် အစဉ် အမြဲ
ကျွန်ခံရမည်။
၇ အဘသည်သမီးကိုကျွန်မခံစေခြင်းငှါရောင်းလျှင်
ထိုမိန်းမသည်ကျွန်ယောက်ျားကဲ့သို့လွတ်ရသည်
၈ မဟုတ်။- သခင်သည် ထိုမိန်းမကို သိမ်းယူ၍ မ
ကြိုက်လျှင်၊ ရွေးစေခြင်းငှါ အခွင့်ပေးရမည်၊
သူကိုလှည့်ဖြားသောကြောင့်၊ တပါးအမျိုး
၉ သားတို့သို့ ရောင်းချပိုင်သော အခွင့်မရှိ။- မိမိ
သား၌ ပေးစား လျှင်မူကား၊ သမီးကဲ့သို့ ပြုရ
၁၀ မည်။-အခြားမိန်းမကိုသိမ်းပြန်လျှင်၊အရင်သိမ်း
သောမိန်းမ၏အဝတ်အစားနှင့်၊ မယားဝတ်ကိုမ
၁၁ လျှော့ရ။- ထိုသုံးပါးကိုမပြုလျှင်၊ ကိုယ်ဖိုးကိုမ
တောင်းဘဲလွတ်ရမည်
၁၂ လူကို အသေ သတ် သော သူသည်၊ အသေ
၁၃ သတ်ခြင်းကိုအမှန်ခံရမည်။- အသေသတ်မည်အ
ကြံမရှိဘဲ၊ သူ၏လက်၌လူအသက်ကိုဘုရား
သခင်အပ်တော် မူလျှင်၊ ပြေးရသော အရပ်ကို
၁၄ ငါခန့်ထားမည်။- အိမ်နီးချင်းကို သတ်မည်အ
ကြံရှိ၍ အနိုင် ထိုက်သော သတ်ကြောင်း ပြုလုပ်

ဝဏ္ဏစ်၌ မိုထွဲ သော် ထည်း၊ ဆွဲယူ၍ သတ်ရ
၁၅ မည်။- မိဘကို အသေသတ်သောသူသည်၊ အ
၁၆ သေသတ် ခြင်းကို အမှန် ခံရမည်။- လူကို ခိုး
သောသူသည်၊ ရောင်းသည်ဖြစ်စေ၊ သူ၏လက်
၌ရှိသည်ဖြစ်စေ၊ အသေသတ်ခြင်းကိုအမှန်ခံရ
၁၇ မည်။- မိဘကို ကျိန်ဆဲသောသူသည်၊ အသေ
၁၈ သတ်ခြင်းကိုအမှန်ခံရမည်။-လူချင်းခိုက်ရန်ပြု
၍၊တယောက်သည်ကျောက်ခဲနှင့်ထုသည်ဖြစ်
စေ၊ ထက်သီးနှင့် ထိုးသည်ဖြစ်စေ၊ အခိုက်ခံရ
သောသူသည်မသေသော်လည်း၊အိပ်ရာ၌တုံးလုံး
၁၉ နေရလျှင်ရင်း၊- တဖန်ထ၍တောင်ဝေးနှင့်သွား
လျှင်ရင်း၊ခိုက်သောသူကိုအပြစ်လွှတ်ရမည်။သို့
ရာတွင်နာသောသူသည် အလုပ်ပျက်ရသည်အ
တွက်၊ အနာပျောက်စေခြင်းငှါကုသရသည်အ
၂၀ တွက်၊ ငွေကိုလျော်ရမည်။- သခင်သည် ကျွန်
ယောက်ျားကျွန်မိန်းမကို ဒုတ်နှင့်ရိုက်၍ ထိုကျွန်
သေလျှင်၊ သခင်သည် ထေးသောဒဏ်ကို ခံရ
၂၁ မည်။- သို့ရာတွင်ကျွန်သည် တရက်နှစ်ရက်ခဏ
၍မသေဘဲနေလျှင်၊ သခင်သည် ထိုကျွန်ကို ပိုင်
သောကြောင့်၊ဒဏ်နှင့်လွတ်ရမည်။
၂၂ လူချင်း ခိုက်ရန် ပြုကြ၍၊ ကိုယ်ဝန် ဆောင်
သောမိန်းမကိုထိခိုက်သဖြင့်၊ကိုယ်ဝန်ပျက်၍အ
ခြားသော အနာမဖြစ်လျှင်၊ မိန်းမလင်စီရင်သည်
အတိုင်း၊ဒဏ်ခံရမည်။ မင်းစီရင်သည် အတိုင်း
ထည်းငွေကိုလျော်ရမည်။-အခြားသောအနာ
ဖြစ်လျှင်၊ အသက် အတွက် အသက်ကိုရင်၊-
၂၃ မျက်စိ အတွက် မျက်စိ ကိုရင်၊ သွားအတွက်
သွားကိုရင်၊လက်အတွက်လက်ကိုရင်၊ ခြေအ
၂၄ တွက်ခြေကိုရင်၊- မီးလောင်ခြင်း အတွက် မီး
လောင်းခြင်းကိုရင်၊ ရှနခြင်းအတွက်ရှနခြင်းကို
ရင်၊ ဒဏ်ချက်ရာအတွက် ဒဏ်ချက်ရာကိုရင်
၂၅ ခံရမည်။- သခင်သည်ကျွန်ယောက်ျားကျွန်မိန်း
၏မျက်စိကို ပျက်အောင်ရိုက်လျှင်၊ မျက်စိပျက်
၂၆ သည် အတွက် လွှတ် ရမည်။- ထိုအတူ ကျွန်
၂၇ ယောက်ျားကျွန်မိန်း၏သွားကိုကျိုးအောင် ရိုက်
လျှင်၊ သွားကျိုးသည်အတွက်လွှတ်ရမည်။
၂၈ နွားသည် လူယောက်ျားမိန်းမကိုခွေ၍ လူသေ
လျှင်၊စင်စစ်ထိုနွားကိုကျောက်ခဲနှင့်ပြစ်၍သတ်
ရမည်။ အသားကိုလည်း မစားရ၊ နွားရှင်ကို
၂၉ ကား၊အပြစ်လွှတ်ရမည်။- ရင်နည်း၊နွားသည်
အထက်က ခွေဘူး၍၊ ခွေကြောင်းကို နွားရှင်
ကြားသိလျက်၊ မချည်မနှောင်ဘဲအလွှတ်ထား၍၊
နွားသည် ယောက်ျား မိန်းမကိုသတ်မိလျှင်၊ ထို
နွားကိုကျောက်ခဲနှင့်ပြစ်သတ်ရမည်။ နွားရှင်
၃၀ ကိုလည်း အသေသတ်ရမည်။- သို့မဟုတ်၊ ငွေ
လျော်စေဟုစီရင်လျှင်၊ စီရင်သည်အတိုင်း၊ မိမိ
၃၁ အသက်ရွေးရန် အဖိုးကိုလျော်ရမည်။- သူတ
ပါး၏ သားသမီးကိုခွေလျှင်၊ စီရင်သည်အတိုင်း
၃၂ ခံရမည်။- ကျွန်ယောက်ျားကျွန်မိန်းမကိုခွေလျှင်
မူကား၊ နွားရှင်သည် ကျွန်ရှင်အားငွေအကျပ်
သုံးဆယ် ကို လျော် ရမည်။ နွား ကို ထည်း
၃၃ ကျောက်ခဲနှင့် ပြစ်သတ်ရမည်။- လူသည်တွင်း
ကိုဖွင့်၍ ထားသည်ဖြစ်စေ၊ တွင်းကို တူး၍မ
ပိတ်ဘဲထားသည်ဖြစ်စေ၊သူတပါး၏မြင်း၊နွား
၃၄ သည်၊ထိုတွင်း၌ကျလျှင်၊- တွင်းရှင်သည်မြင်း၊
နွား၊ အဖိုးကို လျော်၍ အသေ ကောင်ကို ယူရ
၃၅ မည်။- အကြင်သူ၏နွားသည်၊ သူတပါး၏ နွား
ကိုအသေခွေလျှင်၊ နွားရှင်နှစ်ဦးတို့သည်၊ အ
သက်ရှင်သော နွားကိုရောင်း၍ အဖိုးကိုဝေယူ
ရမည်။ သေသောနွားကိုလည်းဝေယူရမည်။-
၃၆ ရင်နည်း၊နွားသည်အထက်ကခွေဘူးကြောင်း
ကို၊ နွားရှင် သိလျက် နှင့် မချည် မနှောင် အ
လွှတ်ထားလျှင်၊ နွားသေကောင်ကို ကိုယ်တိုင်
ယူရမည်။ ထိုနွားတကောင်အတွက် တကောင်
ကိုအမှန်လျော်ရမည်။

၂၂

၁ လူသည်သူ့နွားကိုခိုး၍ သတ်သည်ဖြစ်စေ၊
ရောင်းသည်ဖြစ်စေ၊နွားတကောင်အတွက်နွား
ငါးကောင် ကိုရင်၊ သိုးတကောင် အတွက်သိုး
၂ လေးကောင်ကိုရင်၊ပြန်ပေးရမည်။-သူခိုးသည်
အိမ်ကိုထွင်းဖောက်စဉ်၊ သူတပါးတွေ့၍ သေ
အောင်သတ်သော်လည်း၊ သေစားမသေစေရ။-
၃ သို့သော်လည်းနေထွက်လျှင်၊ သေစားသေစေရ
မည်။ အကြောင်း မူကား၊ ပြန် ပေး စရာ အ
ကြောင်းရှိ၏၊ ဥစ္စာအလျှင်းမရှိလျှင်၊ ခိုးသည်
၄ ဥစ္စာအတွက် ကိုယ်ကို ရောင်းရမည်။- သူခိုး
ထက်၌ခိုးသောနွား၊ သိုးကို အသက်ရှင်လျက်
အမှန်တွေ့လျှင်၊နှစ်ဆပြန်ပေးရမည်။
၅ သူထယ်၊ သူစပျစ်ဥယျာဉ်ကို စားစေ သော်
ရင်၊ မိမိတိရိစ္ဆာန်ကိုသူထယ်၌ ထိန်းကျောင်း
သော်ရင်၊ မိမိထယ်၊ မိမိစပျစ်ဥယျာဉ်ထဲကအ
၆ ကောင်းဆုံးကို ထုတ်၍ ပြန်ပေးရမည်။- မီးရှို့
သော အခါ မြက်ပင် ကြောင့် အစည် အထိုင်း
ရှောက်၍ ထောင်ထွက်၊ ကောက်ရိတ်၊ စပါး

ပင်၊ ထယ်၌ ရှိသောအရာတို့ကို လောင်လျှင်၊
မီးရှို့သောသူသည်အမှန်လျော်ရမည်။
၇ လူတဦးသည်အိမ်နီးချင်းတဦး၌၊ ငွေအစ
ရှိသောဥစ္စာတစုံတခုကိုအပ်နှံ၍၊ အနှံခံသော
သူ၏အိမ်မှ သူခိုး ခိုးသွားလျှင်၊ သူခိုးကိုတွေ့မိ
၈ သော အခါ နှစ်ဆ လျော်စေ။- သူခိုးကို မတွေ့
လျှင်၊အိမ်ရှင်သည် မိမိအိမ်နီးချင်း ဥစ္စာကိုယူ
သလောမယူလောဟု၊ ဘုရားသခင်ရှေ့တော်၌
၉ အစစ်ခံရမည်။- သူဥစ္စာကိုပြစ်မှားသည် အမှု
မှာ၊နွား၊မြည်း၊သိုး၊ အဝတ်အစရှိသော၊ ပျောက်
သောဥစ္စာ တစုံတခုကိုတွေ့၍၊ ဤဥစ္စာကား၊ငါ
၏ဥစ္စာဖြစ်သည်ဟုတစုံတယောက်ဆိုလျှင်၊အ
မှုသည်နှစ်ဦးတို့သည် ဘုရားသခင် ရှေ့တော်၌
အစစ်ခံရ၍၊ တရားရှုံးသော သူသည် နှစ်ဆ
၁၀ လျော်ရမည်။- လူသည်အိမ်နီးချင်း ထယ်၌မြည်း၊
နွား၊သိုးအစရှိသော တိရစ္ဆာန်တစုံတခုကိုအပ်
နှံ၍၊ ထိုတိရစ္ဆာန် သေသော်၎င်း၊ ထိခိုက်၍နာ
သော်၎င်း၊ သက်သေမရှိဘဲ သူတပါး မောင်း၍
၁၁ သွားသော်၎င်း၊- အနှံခံသောသူသည်၊ အိမ်
နီးချင်း၏ ဥစ္စာကိုငါမယူဟု၊ နှစ်ဦးသဘောတူ
လျက်၊ ထာဝရဘုရားရှေ့မှာ အကျိန်ခံရလျှင်၊
ဥစ္စာရှင်သည် ဝန်ခံရမည်။ အနှံခံသူထည်းမ
၁၂ လျော်ရ။- သို့ရာတွင်သူတပါးခိုးသွားလျှင်၊အ
၁၃ နှံခံသူသည်ဥစ္စာရှင်အားပြန်ပေးရမည်။-သားရဲ
ကိုက်လျှင် သက်သေအို့ အသေကောင်ကိုပြ
၁၄ စေ။ပြနိုင်လျှင်အလျော်မခံရ။- လူသည်အိမ်နီး
ချင်း၌ တစုံတခုကို ငှါး၍၊ ဥစ္စာရှင် မပါဘဲ သေ
သော်၎င်း၊ထိခိုက်၍နာသော်၎င်း၊အမှန်လျော်ရ
၁၅ မည်။- ဥစ္စာရှင်ပါလျှင်၊ ငှါးသော သူသည်မ
လျော်ရ။အခနှင့်ငှါးလျှင်မူကား၊ ဥစ္စာရှင်သည်
အခကိုသာတောင်းရမည်။

၁၆ မပေးစားလိုသောအပျိုကို၊အကြင်ယောကျ်ား
သည် ချော့မော့၍ သင့်နေလျှင်၊ ကန်တော့ဥစ္စာ
ကို ပေး၍၊ ထို မိန်းမကို မယား အရာ၌ ခြောက်
၁၇ ထားရမည်။- မိဘဖ အဖ သဘော မတူ၊ မပေး
စားလိုလျှင်၊ ကန်တော့ ရသည် နှင့် အမျှ ငွေ
၁၈ ကိုလျော်ရမည်။- စုန်းမကို အသက် ရှင်စေခြင်း
၁၉ ငှါအခွင့်မပေးရ။- တိရစ္ဆာန်နှင့် သင့်နေသော
သူသည်၊ အသေသတ်ခြင်းကို အမှန်ခံရမည်။-
၂၀ ထာဝရဘုရား မှ တပါး၊ အခြား သော ဘုရား
ရှေ့မှာ ယဇ် ပူဇော်သော သူကို၊ ရှင်းရှင်းဖျက်
ဆီးရမည်။

၂၁ တပြည်တနိုင်ငံသားဖြစ်သော ဧည့်သည်ကို
မနှောင့်ရှက် မညှဉ်းဆဲရ၊ သင်တို့သည် ဆဲ
၂၂ ဂုတ္တုပြည်၌ဧည့်သည်ဖြစ်ကြဘူးပြီ။- မိဘမရှိ
သော သူငယ်နှင့် မုဆိုးမကို သင်တို့သည် မ
၂၃ နှောင့်ရှက်ရ။- နှောင့်ရှက်ခြင်း တစုံတခုကိုပြု
၍၊ သူတို့သည်ငါ့အားအနည်းငယ် အော်ဟစ်
၂၄ လျှင်၊ငါသည်ထိုအသံကိုအမှန်ကြား၍၊-ငါ့အ
မျက်ပြင်းစွာထွက်လျက်၊ သင်တို့ကိုထားအား
ဖြင့် ကွပ်မျက် မည်။ သင်တို့ မယားမှာအသည်
ထည်းမုဆိုးမဖြစ်၍၊ သားသမီးမှာအသည်ထည်း
မိဘမရှိသောသူငယ်ဖြစ်ကြလိမ့်မည်။
၂၅ ငါ့လူဖြစ်သောဆင်းရဲသား၊ အိမ်နီးချင်းအား
သင်သည်ငွေကို ချေးလျှင်၊ အတိုးစားသောသူ
၂၆ ကဲ့သို့သူ၌မပြု၊အတိုးကိုမတောင်းရ။- အိမ်နီး
ချင်းသည် မိမိစောင်ကိုသင်၌ ပေါင်ထားဘူ ၊
၂၇ နေမဝင်မှီ ပြန်ပေးရမည်။- အကြောင်းမူ
ကား၊ အခြားသောခြုံစရာမရှိ၊ ကိုယ်ခြုံဖို့ဖြစ်
၏၊သူသည်အဘယ်သို့အိပ်နိုင်သနည်း၊ ငါ့အား
အော်ဟစ်လျှင်၊ ငါကြားမည်၊ ငါသည်သနား
သောသဘောရှိ၏။
၂၈ ဘုရားသခင်ကိုအွန်ကျူး၍မပြောရ၊ သင်၏
၂၉ အမျိုးကို အုပ်စိုးသောမင်းကိုမကျိန်ဆဲရ၊- အ
ဦးမှည့်သောအသီး၊အဦးညှစ်သောအရည်ကိုမ
ထိမ်မဝှက်ဘဲဆက်ကပ်ရမည်၊ အဦး ဖွားသော
သား ယောကျ်ားကိုထည်း၊ ငါ့အားဆက်ကပ်ရ
၃၀ မည်၊-ထိုနည်းတူ သိုးနွားတို့ကိုပြုရမည်။ ခုနှစ်
ရက်ပတ်လုံးသိုးနွားသငယ်ကို အမိနှင့်အတူ
နေစေ၍၊ အဋ္ဌမနေ့ရောက်မှ ငါ့အားဆက်ကပ်ရ
၃၁ မည်၊- သင်တို့သည်ငါ၌သန့်ရှင်းသောသူဖြစ်
ရကြမည်၊ တော၌သားရဲကိုက်သောအမဲသား
ကိုမစားရ၊ ခွေးတို့အားပြစ်ပေးရမည်။

၂၃

၁ သင်သည်မှားသောသိတင်းစကားကိုမကြား
မပြောရ၊ မတရားသောသူတို့နှင့် ပိုင်းညီ၍၊ မ
၂ မှန်သောသက် သေကိုမခံရ၊- လူများနောက်သို့
လိုက်၍မတရားသဖြင့်မပြုရ၊ တရားတွေ့သည်
အမှုမှာကြီးသောသူဘက်၌နေ၍၊ တရားထမ်း
၃ မှလွှဲစေခြင်းငှါမပြောရ၊- ဆင်းရဲသောသူဘက်
၌လည်း မငဲ့ကွက်ရ၊- သင်သည် ရန်သူ၏ မြင်း
၄ နွားလမ်းလွဲသည်ကိုတွေ့မြင်လျှင်၊အမှန်ပြန်ပို့
ရမည်။- သင့်ကို မုန်းသော သူ၏မြည်း၊ မိမိ
ဆောင်ရွက်သောဝန်အောက်မှာထဲနေသည်ကို

ရှေ့မြင်လျှင်၊ မစထဲရှုနိုင်သောထားအနှိုင်း
၆ ညီ၍ စရမည်။– သင်၌ဆင်းရဲသော သူသည်
တရားတွေ့သောအခါ၊ သူကိုမတရားသဖြင့်မစီ
၇ ရင်ရ။– မဟုတ်မမှန်သောအမှုကိုရှောင်ရမည်။
အပြစ် မရှိသောသူ၊ ဖြောင့်မတ် သောသူကို မ
ကွပ်မျက်ရ၊ အကြောင်းမူကား၊ ငါသည်မတရား
၈ သောသူကို အပြစ်မလွှတ်။– သင်သည် တံမိုးမ
စားရ၊ တံမိုးသည်ပညာရှိတို့၏မျက်စိကို ကွယ်
စေ၍၊ ဖြောင့်မတ်သောသူတို့၏စကားကို ထွေစေ
၉ တတ်၏။– တကျွန်းတနိုင်ငံသား ဖြစ်သောဧည့်
သည်ကို မညှဉ်းဆဲရ၊ သင်တို့ သည် အဲဂုတ္တု
ပြည်၌ ဧည့်သည်ဖြစ်ခဲ့ဘူးသောကြောင့်၊ ဧည့်
သည်၏စိတ်သဘောကိုသိကြ၏။
၁၀ မြေသည် နှစ် ပတ်လုံး ထယ်ထိုး၍ အသီးကို
၁၁ သိမ်းရမည်။–သတ္တမနှစ်တွင်ထယ်ကိုမထိုးဘဲ
အလွတ်ထားရမည်။ ထိုသို့ပြုလျှင်ဆင်းရဲသောအ
မျိုးသားချင်းတို့သည်၊ စားရသောအခွင့်ရှိလိမ့်
မည်။ကြွင်းသောအရာကို တည်း၊မြေတိရိစ္ဆာန်
တို့သည်စားရကြလိမ့်မည်။ ထိုနည်းတူ၊စပျစ်ဥ
ယျာဉ်၊ သံလွင် ဥယျာဉ် ကိုသည်။ ပြုရ မည်။–
၁၂ ခြောက်ရက်ပတ်လုံးအလုပ်လုပ်ရမည်။သတ္တမ
နေ့ရက်၌ငြိမ်ဝပ်စွာနေရမည်။ ထိုသို့ပြုလျှင်သင်၏
နွားမြည်းတို့သည်၊ ငြိမ်ဝပ်စွာ နေရသော အခွင့်ရှိ
လိမ့်မည်။သင်၏ငယ်သားမှာ၏ ဧည့်သည်မှာ၊
၁၃ တို့သည်။ ထပ်ဆာရကြလိမ့်မည်။–ငါပညတ်
သမျှတို့၌သတိပြုကြလော့။အခြားသောဘုရား
၏နာမကို မမြွက် မဆိုနှင့်၊ သင်၏ နှုတ်ထဲက
မြွက်ထံကို၊ လူတပါးမကြားစေနှင့်။
၁၄ တ နှစ် တွင် သုံး ကြိမ် ငါ့ အ ဖို့ ပွဲခံ ရ မည်။–
၁၅ ငါ မှာထားခဲ့ ပြီးသည်အတိုင်း၊ အဗိဗ ထ မှိန်း
ရှုတ်သော ရေ့ ရက်အချိန်၌ အဇုမ ပွဲကိုခံ၍၊ ခု
နှစ်ရက်ပတ်လုံး၊ တဆေးမဲ့သော မုန့်ကို စားရ
မည်။ အကြောင်းမူကား၊ ထိုလတွင်သင်သည်
အဲဂုတ္တုပြည်က ထွက်လာသတည်း။ ထိုပွဲကိုခံ
စဉ်၌ငါ့ထံသို့ အထံယ်သူမျှသက်သည့်းမပေါ်မလာ
၁၆ ရ။–လယ်ထိုး၍ အသီးအနှံကို သိမ်းစရိသည်
ကာလ၊ သိမ်းပွဲကိုခံ၊ လယ်ထိုး၍အသီးအနှံ
ကိုထိုထားသည်ကာလ၊ နှစ်ဆဲသောအခါ၊ ထို
၁၇ သားပွဲကိုခံရမည်။–သင်တို့တွင်သောကျား
အပေါင်းတို့သည်၊ တနှစ်လျှင်သုံးကြိမ်၊ ထာဝရ
အရှင် ဘုရားသခင်ရှေ့တော်၌ မျက်နှာ ပြရကြ
၁၈ မည်။– ငါ့၏ယဇ်၏အသွေးကို၊ တဆေးပါ

သောမုန့်နှင့် ရော၍ မပူဇော်ရ၊ ငါ့၏ပွဲတော်
၁၉ ဆီဥကို နံနက်တိုင်အောင်မကြွင်းစေရ။– သင်၏
မြေ၌အဦးသီးသောအသီး အနှံ အကောင်းဆုံး
ကို၊ သင်၏ ဘုရားသခင် ထာဝရဘုရား၏ အိမ်
တော်ထဲသို့ဆောင်သွင်းရမည်။ဆိတ်သငယ်ကို
အမိ၏နို့ရည်နှင့်မပြုတ်မချက်ရ။
၂၀ ကြည့်ရှု လော့။ ထမ်း ခရီး၌ သင့်ကို စောင့်
ရှောက်၍၊ ငါပြင်ဆင်နှင့်သော အရပ်သို့ ပို့စေ
ခြင်းငှါ၊ ကောင်းကင်တမန်ကို သင့်ရှေ့၌ ငါစေ
၂၁ လွှတ်၏။– ထိုတမန်ကိုရိုသေစွာပြုလော့။စကား
တော်ကို နားထောင်လော့၊ အာဏာ တော်ကို
မဆန်နှင့်၊ သင်တို့ ပြစ်မှားသော အပြစ်ကို သူ
၂၂ သည်မလွှတ်၊ နာမသည်သူ၌တည်ရှိ၏။– အ
ထယ်စင်စစ်သင်သည် သူ့စကားကို နားထောင်
၍၊ငါပညတ်သမျှအတိုင်းပြုလျှင်၊ သင်၏ရန်သူ
တို့ကိုငါသည်ရန်စတ်ပြုမည်။ သင့်ကိုဆီးတား
၂၃ သောသူတို့ကိုတည်းငါဆီးတားမည်။–ငါ့တမန်
သည် သင့်ရှေ့၌သွား၍၊သင့်ကို အာမောရိလူ၊
ဟိတ္တိလူ၊ ဖေရဇိလူ၊ခါနနိလူ၊ ဟိဝိလူ၊ယေဗုသိ
လူ၊ယေဗုသိလူတို့ရှိရာသို့ဆောင်သွင်း၍၊ သူတို့
၂၄ ကို ပယ်ရှင်းမည်။– သူတို့ဘုရားများကို ဦးမချ၊
ဝတ်မပြုရ၊ သူတို့ထုံးသာအတိုင်းမကျင့်ရ၊ သူ
တို့ကိုအကုန်အစင်ဖျက်ဆီး၍၊ရုပ်တုဆင်းတု
၂၅ များကိုတည်း၊ရှင်းရှင်းဖြိုဖျက်ရမည်။–သင်တို့
၏ဘုရားသခင် ထာဝရဘုရားကို ဝတ်ပြုရမည်။
သင်၏ မုန့် ကိုငှင်၊ ရေကိုငှင်၊ ကောင်းကြီး ပေး
တော်မူမည်၊ အနာရောဂါကိုတည်း၊ သင်၏အ
၂၆ ထဲက နှုတ်ထုပယ်ရှားတော်မူမည်။– သင်၏
ပြည်တွင်ကိုယ်ဝန်ပျက်သောသတ္တဝါ၊ မြုံသော
သတ္တဝါနှင့်ကင်းလွတ်လိမ့်မည်၊ သင်၏အသက်
၂၇ တန်းကိုငါ့နှံ့လင်စေမည်။– ငါ့ကိုကြောက်တတ်
သောသဘောကိုသင့်ရှေ့သို့ငါစေလွှတ်၍၊ သင်
ရောက်လေရာရာအရပ်၌၊ဆီးထိမ်းသောလူမျိုး
ကိုငါဖျက်ဆီးမည်။သင်၏ရန်သူအပေါင်းတို့ကို
၂၈ နောက်သို့လှည့်စေမည်။– ပျားတုပ်များကိုလည်း
သင့်ရှေ့သို့ငါစေလွှတ်၍၊သူတို့သည်ဟိဝိလူ၊ ခါန
နိလူ၊ဟိတ္တိလူတို့ကိုသင့်ရှေ့မှာနှင်ထုတ်ကြလိမ့်
၂၉ မည်။– ထိုလူများကိုတနှစ်ချင်းတွင် သင့်ရှေ့မှာ
ငါမနှင်ထုတ်၊ ထိုသို့ပြုလျှင်ပြည်သည်လူဆိတ်ညံ
၍၊ သားရဲသည် သင့်တဖက်၌ များပြား လိမ့်
၃၀ မည်။– သင်သည်တိုးပွား၍တပြည်လုံးကိုဝင်
စားသည်တိုင်အောင်၊ သူတို့ကိုသင့်ရှေ့မှာဖြည်း

၃၁ မြည်းငါနှင်ထုတ်မည်။- ပင်လယ်နီမှ ဖိလိတ္တိပင်လယ်
အကြားကို၎င်း၊ တောမှ ဥဖရတ်မြစ်တိုင်အောင်၎င်း
ပိုင်စေခြင်းငှါ၊ ထိုအရပ်သားတို့ကို ငါအပ်၍ သင်
ထံမှ ငါ မှတ်ထားမည်။ ထိုအရပ်သားများကို သင်
၃၂ နှင်ထုတ်ရလိမ့်မည်။- ထိုလူနှင့်၎င်း၊ ထိုလူတို့၏ ဘုရားများနှင့်၎င်း၊
၃၃ သင်သည် မိဿဟာယ မဖွဲ့ရ။- သင်သည်ငါ့ကို
ပြစ်မှားစေခြင်းငှါ သူတို့သည် ပြုမည်ကို စိုးရိမ်
စရာရှိသောကြောင့်၊ သူတို့သည် သင့်ပြည်၌ မနေ
ရကြ။ သင်သည် သူတို့ဘုရားကို ဝတ်ပြုလျှင်၊ ထို
မိစ္ဆာ ထဲ၌ ရောက်ကြောင်း အမှန်ဖြစ်လိမ့်မည်ဟု၊
မောရှေအား မိန့်တော်မူ၏။

၂၄

၁ တဖန်ထာဝရဘုရားက၊ သင်သည် အာရုန်၊ နာ
ဒပ်၊ အဘိဟုနှင့် ဣသရေလအမျိုး အ
သက်ကြီးသူ ခုနစ်ကျိပ်နှင့်တကွ၊ ထာဝရဘုရား
ထံတော်သို့ တက်၍၊ သူတို့သည် ဝေးဝေးကိုး
ကွယ်ကြ၏။- သင်တယောက်တည်းသာ ထာဝ
ရဘုရား ထံတော်သို့ ချဉ်းကပ်ရမည်။ အခြား
သောသူ မချဉ်းမကပ်ရ၊ လူများတို့သည် သင်
နှင့်အတူ မတက်ရကြဟု မောရှေအား မိန့်တော်
၃ မူ၏။- မောရှေသည်လည်း လူများတို့ ရှိရာ သို့
လာ၍၊ ထာဝရဘုရား၏ စကားတော် အလုံးစုံကို
၎င်း၊ စီရင်တော်မူချက် အလုံးစုံကို၎င်း ပြန်ကြား
၍၊ လူများအပေါင်းကလည်း၊ ထာဝရဘုရား
မိန့်တော်မူသမျှအတိုင်း၊ အကျွန်ုပ်တို့ ပြုပါမည်
၄ ဟု တသံတည်း ပြန်ပြောကြ၏။- မောရှေသည်
ထာဝရဘုရား၏ စကားတော်အလုံးစုံတို့ကို ရေး
ထားပြီးမှ၊ နံနက်စောစောထ၍၊ တောင်ခြေရင်း
၌ ယဇ်ပလ္လင်ကို၎င်း၊ ဣသရေလအမျိုး တဆယ်
နှစ်မျိုးနှင့်အမျှ၊ ကျောက်တိုင် တဆယ်နှစ်တိုင်
၅ ကို၎င်း တည်လေ၏။- ဣသရေလအမျိုးသား လု
လင်တို့ကို စေခိုင်းသည်အတိုင်း၊ သူတို့သည် နွား
များကိုယူ၍၊ ထာဝရဘုရားရှေ့မှာ မီးရှို့သော
၆ ယဇ်၊ မိဿဟာယယဇ်ကို ပူဇော်ကြ၏။- မော
ရှေသည်လည်း၊ အသွေးတဝက်ကို ဖလားတို့၌ထည့်
၍၊ တဝက်ကို ယဇ်ပလ္လင်ပေါ်မှာ ဖြန်းလေ၏။-
၇ ပဋိညာဉ်စာကိုလည်း ယူ၍၊ ပရိသတ်များ ရှေ့
မှာ ဖတ်ပြီးလျှင်၊ သူတို့ကလည်း၊ ထာဝရဘုရား
မိန့်တော်မူသမျှအတိုင်း အကျွန်ုပ်တို့ ပြုပါမည်၊
၈ နားထောင်ပါမည်ဟု ပြောဆိုကြ၏။- မောရှေ
သည်လည်း၊ အသွေးကိုယူ၍ လူများအပေါ်မှာ
ဖြန်းလျက်၊ ဤအသွေးကား၊ ဤစကားအလိုအတွက်
သင်တို့၌ ထာဝရဘုရား ဝန်ခံတော်မူသော ပဋိ
ညာဉ်၏ အသွေးဖြစ်သည်ဟု ပြောဆို၏။
၉ ထိုအခါ မောရှေ၊ အာရုန်၊ နာဒပ်၊ အဘိဟုအစ
ရှိသော၊ ဣသရေလအမျိုး အသက်ကြီးသူ ခုနစ်
၁၀ ကျိပ် တို့သည် တက်၍၊- ဣသရေလ အမျိုး၏
ဘုရားသခင်ကို မြင်ကြ၏။ ခြေတော်အောက်၌ နီ
လာကျောက်ဖြင့် ပြီးသော ကျောက်ခင်းကဲ့ သို့
၎င်း၊ ကြည်လင်သော ကောင်းကင်မှုတ်နှာကဲ့သို့
၁၁ ၎င်းထင်သတည်း။- ဣသရေလအမျိုးသားမှူးမတ်
တို့ကို အပြစ်ပေးတော်မမူ၊ သူတို့သည် ဘုရားသ
ခင်ကို မြင်ရသော်လည်း၊ စားသောက်လျက်နေ
ကြ၏။
၁၂ ထာဝရဘုရားကလည်း၊ ငါရှိရာ တောင်ပေါ်
သို့တက်၍ နေလော့။ လူများ တို့အား သွန်သင်
ခြင်းငှါ၊ ကျောက်ပြားပေါ်မှာ ငါရေးထားသော
ပညတ်တရားများကို သင့်အား ငါအပ်ပေးမည်ဟု၊
၁၃ မောရှေအား မိန့်တော်မူလျှင်၊- မောရှေသည်
မိမိ၏ ထောက်ယောရှုနှင့်အတူ ထ၍၊ ဘုရား
၁၄ သခင်၏ တောင်တော်ပေါ်သို့ တက်သွား၏။- အ
သက်ကြီးသူတို့အားလည်း၊ ငါတို့မလာမှီ တိုင်
အောင် ဤအရပ်၌ စောင့်နေကြလော့။ အာရုန်နှင့်ဟုရ
သည် သင်တို့၌ ရှိသည်ဖြစ်၍၊ မည်သည့်သူမ
ဆို အမှုအခင်းရှိလျှင်၊ သူတို့ထံသို့ သွားစေဟု
မှာထားလေ၏။
၁၅ မောရှေသည် တောင်တော်ပေါ်သို့ တက်၍၊
မိုဃ်းတိမ်သည် တောင်တော်ကို ဖုံးမိုး၏။-
၁၆ ထာဝရဘုရား၏ ဘုန်းတော်သည် သိနာတောင်
ပေါ်မှာ ထိ၍၊ မိုဃ်းတိမ်သည် ခြောက်ရက်ပတ်
လုံး ဖုံးမိုး၏။ သတ္တမနေ့ရက်၌ မိုဃ်းတိမ်အ
ထဲက၊ အသံတော်ထွက်၍၊ မောရှေကို ခေါ်တော်
၁၇ မူ၏။- ထာဝရဘုရား၏ ဘုန်းတော်သည် တောင်
ထိပ်ပေါ်မှာ လောင်သောမီးကဲ့သို့ ထင်၍၊ ဣသ
၁၈ ရေလအမျိုးသားတို့သည် မြင်ရကြ၏။- မောရှေ
သည် မိုဃ်းတိမ်အထဲသို့ ဝင်သဖြင့် တောင်ပေါ်
သို့ ရောက်၍၊ အရက် လေးဆယ် ပတ်လုံး
တောင်ပေါ်မှာ နေလေ၏။

၂၅

၁ ထာဝရဘုရားကလည်း၊ ဣသရေလအမျိုး
၂ သားတို့သည်၊ ငါ့အား ထတ်ဆောင် ပူဇော်ကို
ဆောင်ခဲ့ရမည်အကြောင်း ဆင့်ဆိုလော့။ ကြည်
ညိုသောစေတနာ စိတ်နှင့် အားလျှော သမျှသော

၃ လူတို့၌၊ ထင်သည်အလှူကိုခံရမည်။- ခံရသော
၄ အလှူဟူမူကား၊ ရွှေ၊ ငွေ၊ ကြေးဝါ၊- ပြာသောအ
ထည်၊ မောင်းသောအထည်၊ နီသောအထည်၊
၅ ပိတ်ချော၊ ဆိတ်မွေး၊- အနီဆိုးသောသိုးရေ၊ တ
၆ ထာရှုသားရေ၊ အကာရှုသစ်သား၊- ဆီမီးရန်
ဆီခေါ်ဘို့၊ မီးမွှေးရာနံ့သာပေါင်းမွှေးခေါ်ဘို့ရာ၊
၇ နံ့သာမျိုး၊ မီးထွန်းစရာဆီ၊- ဧဖုဒ်ကျောက်၊ ထမ်
ဝရင်ပိတ်သင်တိုင်းနှင့်ရင်ဖုံး၌ စီစရာကျောက်
၈ မြတ်တည်းဟူသောအလှူကိုခံရမည်။- ငါသည်
သင်တို့တွင် ကျိန်းဝပ်ရာဘို့သန့်ရှင်းရာဌာနကို
၉ လုပ်ကြစေ။- ငါပြသမျှသော တဲတော်ပုံ၊ ထဲ
တော်တန်ဆာပုံနှင့်အညီလုပ်ရမည်။
၁၀ အလျားနှစ်တောင်ထွာ၊ အနံတတောင်ထွာ၊
အောက်တတောင်ထွာ ရှိသော သစ်တာကို၊ အ
ကာရှုသားနှင့်လုပ်၍၊ သစ်တာအတွင်း အပြင်
၁၁ ကိုရွှေစင်နှင့် မွမ်းမံရမည်။- သစ်တာအပေါ်နား
ပတ် ထည်၌ ကွပ်သော ရွှေတန်ဆာ ကိုထည်း
၁၂ လုပ်ရမည်။- ရွှေကွင်းလေးကိုသွန်း၍၊ သစ်တာ
ထောင့်၌ တဘက် နှစ်ကွင်း စီတပ် ရ
၁၃ မည်။- အကာရှုသားထမ်းဘိုးကိုလုပ်၍ရွှေနှင့်
၁၄ မွမ်းမံပြီးမှ၊- သစ်တာထမ်းစရာဘို့ တဘက်တ
၁၅ ချက်ရွှေကွင်းထဲသို့လျှိုထားရမည်။-ထိုထမ်းဘိုး
ကိုထည်း သစ်တာရွှေကွင်းထဲကမနှုတ်၊ အစည်
၁၆ ရှိစေရမည်။- ငါပေးသော သက်သေခံချက်ကို၊
ထိုသစ်တာထဲမှာထားရမည်။
၁၇ အလျားနှစ်တောင်ထွာ၊ အနံတတောင်ထွာရှိ
သော သစ် တာ အဖုံး ကို ထည်း ရွှေ နှင့် လုပ် ရ
၁၈ မည်။-ရွှေခေရုဗိမ်နှစ်ပါးကိုထည်း၊ သစ်တာအ
ဖုံးတွင်၊ အလျား တဘက် တချက်၌ ထုလုပ် ရ
၁၉ မည်။- ထိုခေရုဗိမ်နှစ်ပါးကို သစ်တာဖုံးကိုယ်
ထဲကထုတ်၍၊ သစ်တာဖုံးအပေါ်၌ တဖက်တ
၂၀ ပါးစီ လုပ်ပြီးလျှင်၊- ခေရုဗိမ်နှစ်ပါး တို့သည်
ရှုတ်နှာချင်းဆိုင်၍၊ သစ်တာဖုံးကိုရှုလျက်၊ မိမိ
အတောင်ကို ဖြန့်၍ သစ်တာဖုံးကို မိုးရမည်။-
၂၁ သစ်တာအဖုံးကို သစ်တာပေါ်မှာတင်ရ မည်၊
ငါပေး သော သက်သေခံချက် ကိုလည်း၊ သစ်
၂၂ တာထဲမှာထားရမည်။-ထိုအရပ်၌ငါသည်သင်
နှင့်တွေ့၍၊ သက်သေခံချက် ထားသောသစ်တာ
ဖုံးအပေါ်၊ ခေရုဗိမ်နှစ်ပါးစပ်ကြားမှာသင်နှင့်
နှုတ်ဆက်သဖြင့်၊ ဣသရေလ အမျိုးသားတို့၌
ထင်ဆိုရာသမျှတို့ကိုမိန့်ရင်မည်။
၂၃ အလျားနှစ်တောင်၊ အနံတတောင်၊ အမြင့်တ
တောင်ထွာ ရှိသော စားပွဲကို ထည်း၊ အကာရှု
၂၄ သားနှင့်လုပ်၍၊-ရွှေစင်နှင့် မွမ်းမံရမည်။စားပွဲ
အပေါ်နားပတ်ထည်၌ကွပ်သောရွှေတန်ဆာကို
၂၅ ငှင်၊- အနံ ထက်တဝါး ရှိသော ခါးပန်းကိုငှင်၊
ခါးပန်းအပေါ်နားပတ်ထည်၌ကွပ်သောရွှေတန်
ဆာကိုငှင်လုပ်ရမည်။- ရွှေလေးကွင်းကိုထည်း
လုပ်၍၊ ခြေလေးဘက်လေးခုအထက်၊ စားပွဲလေး
၂၆ ထောင့်၌ တပ်ရမည်။- ထိုရွှေကွင်းတို့သည်ခါး
ပန်းပေါ်မှာရှိ၍၊ စားပွဲထမ်းစရာထမ်းဘိုးနေရာ
၂၇ ဖြစ်ရမည်။-စားပွဲထမ်းစရာအကာရှုသားထမ်း
၂၈ ဘိုးကို လုပ်၍ ရွှေနှင့် မွမ်းမံ ရမည်။- စားပွဲနှင့်
ဆိုင်သောထင်ပန်း၊ ဇွန်း၊ အင်တုံ၊ လောင်းစရာစ
၂၉ လားများကိုထည်း ရွှေစင်နှင့်လုပ်ရမည်။-ရှေ့
၃၀ စားပွဲပေါ်မှာရှေ့တော်မုန့်ကိုအစဉ်တင်ရမည်။
၃၁ မီးခုံကိုလည်း ရွှေစင်နှင့်လုပ်၍၊ မီးခုံတိုင်အစ
ရှိသော အလက်များ၊ ခွက်များ၊ ဘူးသီးများ၊
၃၂ ကြာပွင့်များတို့ကို တစပ်တည်းထုရမည်။- မီး
ခုံတိုင် တဖက် တချက် သုံးလက် စီထွက်၍၊ အ
၃၃ ထက်ခြောက် ထက်ရှိရမည်။- မီးခုံတိုင် ထဲက
ထွက်သော အထက်သုံးလက်တွင်၊ တထက်တ
ထက်၌၊ ဘူး၊ ကြာပွင့်နှင့်တကွ၊ ဗာတံသီးနှင့်ပုံ
၃၄ တူ သော ခွက် သုံး ခွက် ရှိရမည်။- မီးခုံ တိုင် ၌
ထည်း ဘူး၊ ကြာ ပွင့် နှင့်တကွ၊ ဗာတံသီးနှင့်ပုံ
၃၅ တူသောခွက်လေးခွက်ရှိရမည်။- မီးခုံတိုင်ထဲ
ကထွက်သော အထက် ခြောက်ထက် ရှိသည်
အတိုင်း၊ အလက်နှစ်ဖက်အောက်၌ထည်းဘူး
၃၆ သီးတလုံးစီ ရှိရမည်။- ဘူးများ၊ အထက်များ
တို့ကို တကိုယ် တစပ်တည်း ဖြစ်စေ၍၊ မီးခုံတ
၃၇ ကိုယ်လုံးကိုရွှေစင်နှင့်ထုလုပ်ရမည်။- မီးခွက်
ခုနစ်လုံး ကိုထည်း လုပ်ရမည်၊ စားပွဲ ကိုထင်း
၃၈ စေခြင်းငှါ ထိုမီးခွက်ကိုထွန်းရမည်။- မီးညှပ်
နှင့် မီးညှပ် ခံစရာ ခွက်တို့ သည် ထည်း ရွှေစင်
၃၉ ဖြစ်ရမည်။-မီးခုံနှင့်မီးခုံတန်ဆာရှိသမျှတို့ကို၊
၄၀ ရွှေစင်အခွက်တဆယ်နှင့်လုပ်ရမည်။- တောင်
ပေါ်မှာသင့်အားပြခဲ့ပြီးသောပုံနှင့် ညီလျော်စွာ
လုပ်ခြင်းငှါသတိပြုရမည်။

၂၆

၁ တနည်း ကား၊ ပြာသော အ ထည်၊ မောင်း
သော အထည်၊ နီသော အထည် ဖြင့် ပြီးသော၊
ခေရုဗိမ်အရုပ်နှင့်ချယ်လှယ်သော၊ ပိတ်ချောက
ထားကာ ဆယ်ထည်ဖြင့်၊ တဲတော်ကို လုပ် ရ
၂ မည်။- ကုထားကာသည်အလျားနှစ်ဆယ်ရှစ်

၃ ထောင်၊ အနံလေးတောင်ရှိ၍၊ ကုလားကာရှင်း
၄ အများအနံ တူရမည်။- ကုလားကာငါးထည်
၅ မီးထစပ်တည်း ချုပ်ရမည်၊ ကုလားကာ တ
ထည်ပြင်အထက်မှာ၊ ကုလားကာနားချင်းဆက်မှီ
ရာ၌၊ ကွင်းများကို ပြာသောအထည်နှင့်လုပ်ရ
မည်၊အခြားသောကုလားကာပြင်ထက်မှာ၊ကု
လားကာနားချင်း ဆက်မှီရာ၌ ထည်း ထိုအတူ
လုပ်ရမည်။- ကုလားကာတထည်၌ ကွင်းငါး
ဆယ်ကိုငှင်၊ အခြားသော ကုလားကာ အနား
ဆက်မှီရာ၌ ကွင်းငါးဆယ် ကိုငှင်၊ ကွင်းရှင်း
၆ ဆိုင်မိအောင်လုပ်ရမည်၊- ရွှေချောင်းငါးဆယ်
ကိုထည်းလုပ်၍၊ ထိုရွှေချောင်းဖြင့်ကုလားကာ
များကိုပူးတွဲသဖြင့်၊ ထဲတော် တဆောင်တည်း
ဖြစ်ရမည်၊
၇ ထဲတော်ဖုံးအုပ်ဘို့ အခြားသောကုလားကာ
၈ ဆယ်တထည်ကိုဆိတ်မွေးနှင့်လုပ်ရမည်။- ကု
လားကာသည် အလျားအတောင်သုံးဆယ်၊အနံ
လေးတောင်ရှိ၍၊ ကုလားကာဆယ်တထည်တို့
၉ သည်အလျားအနံ ချင်းတူရမည်။- ကုလားကာ
ငါးထည်တစပ်၊ခြောက်ထည်တစပ်တည်းချုပ်
၍၊ ဆဋ္ဌမကုလားကာကို ထဲတော်ဦး၌ ခေါက်
၁၀ ထားရမည်။-ကုလားကာများဆက်မှီရာ၌၊ပြင်
ထက်ကနေသောကုလားကာတထည်အနားမှာ၊
ကွင်း ငါးဆယ်ကိုငှင်၊ ဆက်မှီသော အခြားကု
လားကာအနားမှာ၊ကွင်းငါးဆယ်ကိုငှင်လုပ်ရ
၁၁ မည်။- ကြေးဝါချောင်းငါးဆယ်ကိုထည်း လုပ်
၍၊ကွင်းတို့၌လျှိုပြီးလျှင်၊ အပေါ်ထဲတပိုင်းနှင့်
တပိုင်း ပူးတွဲသဖြင့်၊ ထဲတဆောင်တည်းဖြစ်ရ
၁၂ မည်။- ထိုအပေါ်ထဲ၌ ပိုသော ကုလားကာတ
ဝက်ကိုကား၊ ထဲတော်နောက်လေးမှာ တွဲလွဲဆွဲ
၁၃ ထားရမည်၊-အပေါ်ထဲ၌ပိုသောကုလားကာအ
လျား နှစ်တောင်တွင်၊ ထဲတော်ဖုံးအုပ်ဘို့၊ တ
ဖက်တချက် တတောင်စီ တွဲလွဲဆွဲထားရမည်။-
၁၄ အပေါ်ထဲဖုံးအုပ်ဘို့အနီဆိုးသောသိုးရေကိုငှင်၊
ထိုသိုးရေအပေါ်၌ တထာဝရသားရေကိုငှင်လုပ်
ရမည်၊
၁၅ ထဲတော်ကာရန်ထောင်ထားရသောအကာရှ
၁၆ ပွဲ့ပြား ထိုကိုထည်း လုပ်ရမည်။- ပျဉ်ပြား
သည်အလျားဆယ်တောင်၊ အနံ တတောင်ထွာ
၁၇ ရှိရမည်၊- ထိုပျဉ်ပြားရှိသမျှတို့၌၊ခြေထောက်
၁၈ နှစ်ခုစီတတန်းတည်းရှိစေခြင်းငှါ၊လုပ်ရမည်။-ထဲ
တော်တောင်ထက်၌ကာရန် ပျဉ်ပြားနှစ်ဆယ်
၁၉ ကို လုပ်ရမည်၊- ထိုပျဉ်ပြားနှစ်ဆယ်အောက်အော
ပြားတပြားအောက်၌ ခြေထောက်နှစ်ခုစီ ရှိစ
ရာဘို့၊ ငွေခြေစွပ် လေးဆယ်ကိုလုပ်ရမည်။-
၂၀ ထိုအတူ ထဲတော်မြောက်ထက်၌၊ ကာရန်ပျဉ်
၂၁ ပြား နှစ်ဆယ်ရှိရမည်။- ထို ပျဉ်ပြား၌ထည်း
ငွေခြေစွပ်လေးဆယ်၊ တပြားနှစ်ခုစီရှိရမည်။-
၂၂ ထဲတော် အနောက် ထက် ၌၊ ကာရန် ပျဉ် ပြား
၂၃ ခြောက်ပြားကိုငှင်၊- ထောင့်တဖက်တချက်၌၊
၂၄ ကာရန်ပျဉ်ပြားနှစ်ပြားကိုငှင်လုပ်ရမည်။-အ
ထက်၌ငှင်၊အောက်၌ငှင်၊ ကွင်းကိုတပ်၍ရှေ့စပ်
လျက်၊ထောင့်နှစ်ခုကိုပြီးစေရမည်။- ပျဉ်ပြား
ရှစ်ပြား၊ ငွေခြေစွပ်ဆယ်ခြောက်ခု၊ တပြားနှစ်
၂၅ ခုစီရှိရမည်။- ထဲတော်၌ ကာရသောပျဉ်ပြား
ကိုလျှိုစရာဘို့၊ အကာရှသား ကန့်လန့် ကျင် ထို
၂၆ ကို တဖက် ငါးချောင်းစီ လုပ်ရမည်။- ထဲတော်
နောက်ဖေး၌ ကာရသော ပျဉ်ပြားကို လျှိုစရာ
ဘို့၊ ကန့်လန့်ကျင် ငါးချောင်း ကိုသည်း လုပ်ရ
၂၇ မည်။-အထယ်ကန့်လန့်ကျင်ကို၊ထောင့်တခုထ
၂၈ တချက်၌ဆုံးစေရမည်။- ပျဉ်ပြားထိုကိုရွှေနှင့်
ရွှမ်းမံရမည်၊ ကန့်လန့်ကျင်လျှိုဘို့ရာ ရွှေကွင်း
ကိုလည်း လုပ်၍၊ ကန့်လန့် ကျင် ထိုကို ရွှေနှင့်
၃၀ ရွှမ်းမံရမည်။- တောင်ပေါ်မှာသင့်အားပြသော
ပုံနှင့်အညီ၊ ထဲတော်ကိုတည်ဆောက်ရမည်၊
၃၁ တနည်း ကား ပြာသော အထည်၊ မောင်း
သောအထည်၊ နီသောအထည်၊ ပိတ်ချောဖြင့်
ပြီး၍၊ ခေရုဗိမ်အရုပ်နှင့် ချယ်လှယ်သော ကု
၃၂ လားကာတထည်ကိုချုပ်ရမည်၊-ရွှေရှုသောအ
ကာရှသားတိုင်လေးတိုင်အပေါ်မှာ၊ထိုကုလား
ကာကိုဆွဲထားရမည်၊ ထိုတိုင်တို့သည်ရွှေတံ ရှိ
နှင့်ငှင်၊ငွေခြေစွပ်လေးခုနှင့်ငှင်ပြည့်စုံရမည်။-
၃၃ သက်သေခံချက်ထားသောသစ်တာကို၊ကုလား
ကာအတွင်းသို့သွင်းစေရာဘို့၊ ထိုကုလားကာကို
ရွှေချောင်းဖြင့်ဆွဲကာ၍၊ သန့်ရှင်းရာအရပ်၊သန့်ရှင်းရာအ
ချုံအရပ် နှစ်ပါးစပ်ကြား၌၊ အပိုင်းအခြားဖြစ်
၃၄ ရမည်။- အလွန်သန့်ရှင်းရာအရပ်၌ သက်သေခံစွဲတ
သစ်တာအပေါ်မှာ၊သစ်တာအဖုံးကိုတင်ထားရ
၃၅ မည်၊-ကုလားကာပြင်မှာစားပွဲကိုထားရမည်၊
ထဲ တော် တောင် ထ က် နား မှာ မီး ခုံ ကို ငှင်၊
မြောက်ထက်နားမှာစားပွဲကိုငှင်၊ တဖက်နှင့်တ
ဖက် ဆိုင်မိအောင်ထားရမည်၊
၃၆ ထဲတော်တံခါးဝ၌ကာရန်၊ပြာသောအထည်၊
မောင်းသောအထည်၊နီသောအထည်၊ပိတ်ချော

မြင့်ပြီး၍ ချယ်လှယ်သောကုလားကာထည်
၁၉ ကိုလုပ်ရမည်။- ထိုကုလားကာသို့ ရွှတ်မှိန့်
ပြည့်နံ့သောအကာရှထိုင်ငါးတိုင်ကိုလုပ်၍၊ ရွှေ
နှင့်မွစ်မံရမည်။ ကြေးဝါခြေစွပ်ငါးခုကိုလည်း
သွန်းရမည်။

## ၂၇

၁ တနည်းကား၊ အလျားငါးတောင်၊ အနံ ငါး
တောင်မှိ၍စတုရန်းထေးထောင့်ဖြစ်သောယဇ်
ပလ္လင်ကို၊ အကာရှသားနှင့်လုပ်ရမည်။ အမြင့်
၂ ထည်း သုံးတောင်မှိရမည်။- ယဇ်ပလ္လင်ထေး
ထောင့်အပေါ်မှာ၊ ဦးချိုထေးချောင်းကိုအကာ
ရှသားနှင့်လုပ်၍၊ ကြေးဝါနှင့် မွမ်းမံရမည်။-
၃ ပြာခံစရာအိုးနှင့်တကွထူး၊ ဂျင်းပြား၊ အင်တုံ၊ အ
ခဲသားမှိတ်၊ ထင်ပန်းအစမှိသော၊ ယဇ်ပလ္လင်
နှင့်ဆိုင်သော တန်ဆာ မှိသမျှတို့ကို၊ ကြေးဝါ
၄ နှင့်လုပ်ရမည်။- ကြေးဝါဆန်ခါကိုငှင်၊ ဆန်ခါ
ထေးထောင့် အပေါ်မှာ ကြေးဝါလေးကွင်း ကို
၅ ငှင်လုပ်ပြီးလျှင်။-ယဇ်ပလ္လင်ခါးပန်းအောက်၊
၆ အထယ်၌ထားရမည်။- ယဇ်ပလ္လင်ထမ်းစရာ
အကာ ရှသား ထမ်းထိုးတို့ကိုလုပ်၍၊ ကြေးဝါ
၇ နှင့်မွမ်းမံ ပြီးမှ၊- ယဇ်ပလ္လင်ကို ထမ်းစရာသို့
တဖက် တချက် ကွင်း များ၌ လျှို ထား ရ မည်။-
၈ တောင် ပေါ်မှာ သင့်အား ပြသည်အတိုင်း၊ ထို
ယဇ်ပလ္လင်ကို အပေါ်အောက် ထင်းထင်း ဖြစ်
စေခြင်းငှါ၊ ဟူည်ပြားနှင့်လုပ်ရမည်။
၉ တဲတော် ဝင်း ကာ ရန် မူကား၊ အလျား အ
တောင်တရာမှိသောပိတ်ချောနှင့်၊ တောင်ထက်
၁၀ ၌ကုလားကာကို လုပ်ရမည်။- ထိုကုလားကာ
သို့တိုင်နှစ်ဆယ်၊ တိုင်ခြေစွပ်နှစ်ဆယ်ကိုကြေး
ဝါနှင့်လုပ်၍တိုင်တံမှို၊ တိုင်တန်းတို့ကိုငွေဖြင့်
၁၁ ပြီးစေရမည်။-ထိုနည်းတူ၊ မြောက်ထက်၌ကာ
ရန်အလျားအတောင်တရာမှိသောကုလားကာ
နှင့်တကွ ငွေတံမှို၊ ငွေတန်း ပါသော ကြေးဝါ
တိုင် နှစ်ဆယ်၊ ကြေးဝါ ခြေစွပ် နှစ်ဆယ် မှိရ
၁၂ မည်။- ဝင်းအနောက်ထက် အနံ၌ကာရန်၊ အ
လျား အတောင် ငါးဆယ်မှိသော ကုလားကာ
နှင့် တကွ တိုင် တ ဆယ်၊ ခြေစွပ် တဆယ် မှိရ
၁၃ မည်။- ဝင်းအရှေ့ဘက်၌ထည်းအနံ အတောင်
၁၄ ငါးဆယ် မှိရမည်။- တံခါး၏ တဖက်တချက်၌
ကာရန်၊ အလျား ဆယ်ငါး တောင် မှိသောကု
၁၅ လားကာနှင့်တကွ တိုင် သုံးတိုင်၊- ခြေစွပ်သုံး
၁၆ ခုမှိရမည်။- ဝင်းတံခါး၌ကာရန်၊ ပြာသော
အထည်၊ မောင်းသောအထည်၊ နီသောအထည်၊
ပိတ်ချောဖြင့် ပြီး၍၊ ချယ်လှယ်သော ကုလား
ကာအတောင်နှစ်ဆယ် နှင့်တကွ တိုင်လေးတိုင်
၁၇ ခြေစွပ်လေးခုမှိရမည်။-ဝင်းပတ်ထည်၌ တိုင်မှိ
သမျှတို့သည်ငွေတံမှို၊ ငွေတန်း၊ ကြေးဝါခြေစွပ်
၁၈ နှင့်ပြည့်စုံရမည်။-ဝင်းသည်အလျားအတောင်
တရာ၊ အနံ ငါးဆယ်၊ အမြင့်ငါးတောင် မှိ၍၊
၁၉ ပိတ်ချောနှင့်ကြေးဝါခြေစွပ်ဖြင့်ပြီးရမည်။- အ
မှုတော်ထမ်းသို့ တဲတော် အသုံးအဆောင် မှိသ
မျှကိုငှင်၊ တဲတော်တံသင်၊ ဝင်းနှင့်ဆိုင်သောတံ
သင်မှိသမျှကိုငှင်၊ ကြေးဝါနှင့်လုပ်ရမည်။
၂၀ ပဋိညာဉ်စည်းဝေးရာ တဲတော်တွင်၊ သက်
သေခံချက်ထားရာအရပ်ကို ကာသောကုလား
ကာပြင်မှာ၊ မီးနံ့၌အစဉ်မပြတ် မီးထွန်းစရာ
ထို့၊သံလွင်သီးကိုထောင်း၍ယူသောသံလွင်ဆီ
စင်ကို၊ ဣသရေလအမျိုးသားတို့သည်ဆောင်ခဲ့
၂၁ ရကြမည် အကြောင်း သင့်ဆိုလော့။- အာရုန်
နှင့်သူ၏သားတို့သည်၊ ညဦးမှသည်နံနက်တိုင်
အောင်၊ ထာဝရဘုရားရှေ့တော်၌ ထိုအမှုကိုစီ
ရင်ရမည်။ ဣသရေလ အမျိုးတို့ထည်၊ သားစဉ်
မြည်အဆက် စောင့်ရသော ပညတ်တော်ဖြစ်သ
တည်း။

## ၂၈

၁ သင်၏ အစ်ကို အာရုန်သည်၊ ငါ့ရှေ့မှာယဇ်ပ
ရောဟိတ်အမှုကိုဆောင်ရမည်အကြောင်း၊ သူ
နှင့်သူ၏ သားတည်းဟူသောနာဒဗ်၊ အဘိဟု၊
ဧလာဇာ၊ ဣသမာတို့ကို၊ ဣသရေလအမျိုးသား
တို့အထဲကရွေးချယ်၍၊သင့်အောက်၌ခန့်ထား
လော့။- သင်၏အစ်ကိုအာရုန်၌ ဘုန်းအသရေ
ထင်ပေါ်စေခြင်းငှါ၊ သန့်ရှင်းသော အဝတ်ကို
၂ လုပ်၍ပေးရမည်။- အာရုန်သည်ငါ့ရှေ့မှာယဇ်
ပရောဟိတ်အမှုကိုဆောင်ရွက်ရသောအခွင့်ပြု
၍၊ သူ့ကို သန့်ရှင်း စေခြင်းငှါ၊ ငါပေး သော
ညာဏ်ကို ရသောပညာ မှိအပေါင်း တို့သည်၊
၃ ထိုအဝတ်ကို လုပ်ရမည်အကြောင်းမှာထားရ
မည်။-လုပ်ရသောအဝတ်ဟူမူကား၊ရင်ဖုံး၊ သင်
တိုင်း၊ ဝတ်လုံ၊ချယ်လှယ်သောအင်္ကျီ၊ ပေါင်း၊
ခါးပန်းတည်းဟူသော၊ သင်၏အစ်ကိုအာရုန်
နှင့်သူ၏ သားတို့ သည်၊ ငါ့ရှေ့မှာ ယဇ်ပရော
ဟိတ် အမှုကို ဆောင်ရွက်ရမည် အကြောင်း၊
၄ သန့်ရှင်းသောအဝတ်ကိုလုပ်ခြင်းငှါ၊- ရွှေနှင့်
ပြာသော အထည်၊ မောင်းသော အထည်၊ နီ

၆ သောအထည်၊ မိတ်ချောထို့ကို ထူရမည်။- ထို
ရွှေအစရှိသည်တို့နှင့်၊ သင်တိုင်းကိုထူးဆန်းစွာ
၇ လုပ်ရမည်။-ဆိုင်းကြိုးနှစ်ပင်ရှိ၍၊သင်တိုင်းအ
ပေါ်နားချင်းတွဲမိစေခြင်းငှါ၊ တဖက်တချက်ကို
၈ ဆွဲချုပ်ရမည်။-သင်တိုင်းအပေါ်နား၌ထူးဆန်း
သော ရင်စည်းကိုလည်း၊ သင်တိုင်း ကိုယ်ကဲ့
သို့၊ ရွှေနှင့်ငှင်၊ ပြာသောအထည်၊မောင်းသော
အထည်၊ နီသောအထည်၊ မိတ်ချောထို့နှင့် ငှင်
၉ လုပ်ရမည်။- ရှတ်ကျောက် နှစ်လုံးကိုယူ၍၊ ဣ
၁၀ သရေလ အမျိုးတဆယ်နှစ်မျိုးကို၊- အသက်
အကြီး အငယ် အလိုက်၊ ကျောက် နှစ်လုံး ပေါ်
မှာအမျိုး နာမည် ခြောက်စုစီ အက္ခရာ တင်ရ
၁၁ မည်။- တံဆိပ်ပေါ်မှာ အက္ခရာတင်သကဲ့သို့၊
ကျောက် ထုပ်သောအလုပ် နှင့်တကွ၊ ဣသရေ
လအမျိုး၏နာမည်ထို့ကို၊ ထိုကျောက် နှစ်လုံးအ
ပေါ်မှာအက္ခရာတင်၍၊ရွှေကျောက်ဖိုး၌ထည့်
၁၂ ရမည်။- ဣသရေလ အမျိုးသားတို့ကို အောင်း
မေ့စေခြင်းငှါ၊ ထိုကျောက်နှစ်လုံးကိုသင်တိုင်း
ထိုင်းကြိုးပေါ်မှာတပ်ရမည်၊ ထိုသို့ဣသရေလ
အမျိုးသားတို့ကို အောင်းမေ့ စေခြင်းငှါ၊ သူတို့
နာမည်များကို အာရုန်သည်ထာဝရဘုရားရှေ့
၁၃ တော်၌၊မိမိပခုံးပေါ်မှာဆောင်ရမည်။-ကျောက်
၁၄ ဖိုးတို့ကို ရွှေနှင့်လုပ်ရမည်။- အဆုံး၌ တပ်ရ
သော ကြိုးနှစ်ပင်တို့ကို ရွှေစင်နှင့်ကျစ်၍၊ လုပ်
ပြီးမှကျောက်ဖိုး၌တွဲရမည်။
၁၅ ရွှေနှင့်ငှင်၊ပြာသောအထည်၊မောင်းသောအ
ထည်၊ နီသောအထည်၊ မိတ်ချောနှင့်ငှင်၊ သင်
တိုင်းကိုလုပ်သည် နည်းတူ၊ ဗျာဒိတ် ရင်ဖုံးကို
၁၆ ထူးဆန်းစွာလုပ်ရမည်။-နှစ်ထပ်ခေါက်လျက်၊
အလျား တထွာ၊ အနံ တထွာ၊ စတုရန်း သေး
၁၇ သောင့်ဖြစ်ရမည်။-ထိုရင်ဖုံး၌ကျောက်မြတ်ကို
လေးတန်းစီရမည်။ ပဌမအတန်းကား၊ကျောက်
၁၈ နီ၊ဥဿဖရား၊ပတ္တမြား၊-ဒုတိယအတန်းကား၊
၁၉ မြ၊နီလာ၊မိန်၊-တတိယအတန်းကား၊ဂေါ်ကြိုး၊
၂၀ မဟူရာ၊ဂေါမိတ်၊- စတုတ္ထအတန်းကား၊မျက်
ရွဲ၊ ကြောင်၊ နဂါးသွဲ့ဖြစ်၍၊အသီးအသီးတို့ကို
၂၁ ရွှေထိုး၌စီရမည်။- ဣသရေလအမျိုး တဆယ်
နှစ်မျိုးရှိသည်အတိုင်း၊ တံဆိပ်ပေါ်မှာအက္ခရာ
တင်သကဲ့သို့၊ ထိုကျောက်တို့၌၊ ထိုတဆယ်နှစ်
ပါးသောနာမည်အသီးအသီးတို့ကိုတင်လျက်၊
ကျောက်တလုံးလျှင်၊နာမည်တပါးစီပါရမည်။-
၂၂-၂၅ ရင်ဖုံးအပေါ်ထောင့်နှစ်ခု၌ ရွှေနှစ်ကွင်းကို
ငှင်၊ကျစ်သောရွှေကြိုးနှစ်ပင်ကိုငှင်လုပ်ပြီးမှ၊ထို
ရွှေကွင်း၌တပ်၍၊သင်တိုင်းဆိုင်းကြိုးပေါ်မှာရှိ
၂၆ သောကျောက်ဖိုးတို့၌တွဲရမည်။-တဖန်ရွှေနှစ်
ကွင်းကို လုပ်၍ သင်တိုင်း အောက် နားမှာ ရှိ
သောရင်ဖုံးအောက်ထောင့်နှစ်ခု၌တပ်ရမည်။-
၂၇ အခြားသော ရွှေနှစ်ကွင်းကိုလည်းလုပ်၍၊ သင်
တိုင်း ရှေ့ထက် အောက်နားနှင့် ထူးဆန်းသော
ရင်စည်းအပေါ်နားဆက်မှိရာတွင်၊ သင်တိုင်း
၂၈ ကိုယ် တဖက်တချက်၌တပ်ရမည်။- ရင်ဖုံးရွှေ
နှစ်ကွင်းကိုသင်းတိုင်းရွှေနှစ်ကွင်းနှင့်တွဲ၍၊ ပြာ
သောကြိုးဖြင့်ပြီးစေရမည်။ ထိုသို့ရင်ဖုံးကိုထူး
ဆန်းသော ရင်စည်း အပေါ်နားမှာတွဲ၍၊ သင်
၂၉ တိုင်းနှင့်မကွာအမြဲရှိစေရမည်။- အာရုန်သည်
ထည်။ သန့်ရှင်းရာအရပ် ဌာနတော်ထဲသို့ဝင်
သောအခါ၊ ဣသရေလအမျိုးသားတို့ကိုထာဝ
ရဘုရား အစည်အောင်းမေ့တော်မူစေခြင်းငှါ၊
ဗျာဒိတ် ရင်ဖုံး၌ပါသော သူတို့နာမည် များကို၊
၃၀ မိမိနှစ်လုံးပေါ်မှာဆောင်ရမည်။- ဗျာဒိတ်ရင်
ဖုံးအထဲ၌ဥရိမ်နှင့် သုမိမ်ကိုသွင်းထားရမည်။
အာရုန် သည် ထာဝရ ဘုရား ရှေ့တော်သို့ ဝင်
သောအခါ၊ မိမိနှစ်လုံးပေါ်မှာ ဥရိမ်နှင့်သုမိမ်
ပါသည်ဖြစ်၍၊ဣသရေလအမျိုးသားတို့အမှု၌
စီရင်တော်မူချက်ကို၊ ထာဝရဘုရားရှေ့၊ မိမိနှစ်
လုံးပေါ်မှာဆောင်ရမည်။
၃၁ သင်တိုင်းနှင့်ဆိုင်သောဝတ်လုံကို၊ ပြာသော
၃၂ အထည်နှင့်သာလုပ်ရမည်။- ဝတ်လုံ၌ ထည်
စွပ်ပါ၍ ထည်စွပ်ကို မစုတ်စေခြင်းငှါ၊ သံချပ်
ထည်စွပ်ကွပ်သကဲ့သို့၊ ရက်သောအထည်နှင့်
၃၃ ကွပ်ရမည်။-ပြာသောအထည်၊မောင်းသောအ
ထည်၊ နီသောအထည်နှင့်လုပ်သော တလဲသီး
များကိုငှင်၊ ရွှေဆည်းလည်းများကိုငှင်၊ ဝတ်လုံ
၃၄ အောက် စွန်း နား ပတ် ထည်၌၊- တလဲ သီးတ
လုံး၊ရွှေဆည်းလည်းတလုံးစီခြားလျက်၊အစည်
၃၅ အတိုင်း ဆွဲထား ရမည်။- အာရုန်သည် အမှု
တော်ကိုဆောင်၍၊သန့်ရှင်းရာအရပ်ဌာနတော်
အထဲမှာ၊ ထာဝရဘုရား၊ ရှေ့တော်၌ ထွက်ဝင်
သော အခါ၊ သေ သေးနှင့် ကင်း လွတ် မည် အ
ကြောင်း၊ ထိုဝတ်လုံကိုဝတ်၍၊ သူ၏ အသံကို
ကြားရမည်။
၃၆ ရွှေစင်သင်းကျပကိုထဉ်းလုပ၍၊ တံဆိပ်ပေါ်
မှာ အက္ခရာ တင်သကဲ့သို့၊ ထာဝရ ဘုရားအား
၃၇ သန့်ရှင်းခြင်းထူးအက္ခရာတင်၍၊-ပြာသောကြိုး

၃၈ နှင့်ပေါင်းရွေ့၌ချည်ထားရမည်။– အာရုန်သည်
ထိုသင်းကျစ်ကိုနဖူး၌ဆင်သဖြင့်၊ဣသရေလအ
မျိုးသားတို့၏ သန့်ရှင်းသော အလှူဓါနနှင့် ဆိုင်
၍၊သန့်ရှင်းစေသမျှသောအရာတို့၌ ပါသောအ
ပြစ်ကိုဆောင်ရမည်၊သူတို့သည်ထာဝရဘုရား
၏ မိတ်တော်နှင့်တွေ့ခြင်းငှါ၊ အာရုန်၏နဖူး၌အ
၃၉ စည်ဆင်ရမည်။– မိတ်ချောအင်္ကျီကိုထည်းလုပ်
၍ချယ်ဖွယ်ရမည်၊ ပေါင်းကိုလည်း၊ မိတ်ချော
နှင့် လုပ်ရမည်၊ ခါးပန်း ကိုထည်း ချယ်ဖွယ်
သောအလုပ်နှင့်ပြီးစေရမည်၊
၄၀ အာရုန်၏ သားတို့ ဘုန်းအသရေကိုထင်ပေါ်
စေခြင်းငှါ၊ အင်္ကျီ၊ ခါးပန်း၊ဦးထုပ်များကိုလုပ်
၄၁ ပေးရမည်။–ထိုသို့သင်၏အစ်ကိုအာရုန်နှင့်သူ၏
သားတို့ကို ဝတ်ဆင်စေပြီးမှ၊ သူတို့သည်ငါ့ရှေ့
မှာယဇ်ပရောဟိတ်အမှုကိုဆောင်ရွက်မည်အ
ကြောင်း၊ သူတို့ကို ဆီနှင့်လိမ်းသဖြင့် အရာ၌
၄၂ ခန့်ထား၍ သန့်ရှင်းစေရမည်။– သူတို့၌ရှက်စ
ရာအကြောင်း၊ မထင် မပေါ်စေခြင်းငှါ၊ ခါးမှ
ပေါင်သို့ထိ၊ မိတ်ပေါင်း ဘီကို ချုပ်၍ ပေးရ
၄၃ မည်၊–အာရုန်နှင့်သူ၏သားတို့သည်၊ပရိသတ်
စည်းဝေးရာ ထဲတော်ထဲသို့ဝင်သော်၎င်း၊ သန့်
ရှင်းရာအရပ်၌အမှု၌ ယဇ်ပလ္လင်အနားသို့ချဉ်း
ကပ်သော်၎င်း၊ အပြစ်ရောက်၍မသေစေခြင်းငှါ
ထိုသို့ဝတ်ရမည်၊ အာရုန်မှစ၍ သူ၏အမျိုးအ
စည် အဆက် တို့သည်၊ စောင့်ရသော ပညတ်
တော်ဖြစ်သတည်း။

၂၉

၁ သူတို့သည်ငါ့ရှေ့၌ ယဇ်ပရောဟိတ် အမှုကို
ဆောင်ရွက်မည်အကြောင်း၊ အထံသို့သန့်
ရှင်းစေရမည်နည်းဟူမူကား၊အပြစ် မပါသော
နွားသငယ်အထီးနှင့်သိုးနှစ်ကောင်တို့ကိုငင်၊–
၂ တဆေးမပါသောမုန့်၊ တဆေးမပါဘဲဆီနှင့်
ထုပ်သောမုန့်ပြား၊တဆေးမပါဘဲဆီနှင့်လူး
၃ သော မုန့်ကြွပ်တို့ကိုငင် ယူရမည်၊– ထိုမုန့်
များကို တောင်းတလုံးထဲ၌ထည့်ပြီးမှ၊ နွားတ
ကောင်၊ သိုး နှစ် ကောင် နှင့်တကွ ဆောင်ခဲ့ ရ
၄ မည်။– အာရုန်နှင့်သူ၏သားတို့ကို၊ ပရိသတ်
စည်းဝေး ရာ တဲခါး နားသို့ ခေါ်ခဲ့၍ ရေ ချိုး ရ
၅ မည်။–အဝတ်တန်ဆာများကိုယူ၍၊အင်္ကျီ၊ဝတ်
လုံ၊ သင်တိုင်း၊ ရင်ဖုံးနှင့်အာရုန်ကိုဝတ်စေ၍၊
ထူးဆန်းသော သင်တိုင်း ရင်စည်းနှင့် စည်းရ
၆ မည်။– သူ၏ခေါင်း ပေါ်မှာ ပေါင်းကို ထင်၍၊
ပေါင်း၌ သန့်ရှင်းသော သင်းကျစ်ကို တပ်ရ
၇ မည်။– ထိုအခါ လိမ်းရာ ဆီကို ယူ၍၊ သူ၏
ခေါင်းပေါ်၌လောင်းသဖြင့်သူကိုလိမ်းရမည်။–
၈ သူ၏ သားတို့ကိုလည်းခေါ်ခဲ့၍၊ အင်္ကျီဝတ်စေ
၉ ရမည်။– ခါးပန်းကိုလည်းစည်း၍၊ ဦးထုပ်ကို
ထည်းဆောင်းစေပြီးလျှင်၊ သူတို့သည်ထာဝရ
ပညတ်တော်အတိုင်း၊ယဇ်ပရောဟိတ်အရာကို
ဆိုင်ရမည်၊ ထိုသို့အာရုန်နှင့် သူ၏သားတို့ကို၊
ယဇ်ပရောဟိတ်အရာ၌ခန့်ထားရမည်၊
၁၀ ထိုနောက်၊နွားထီးတကောင်ကိုပရိသတ်စည်း
ဝေးရာတဲတော်ရှေ့သို့ဆောင်ခဲ့၍၊အာရုန်နှင့်သူ
၏သားတို့သည်၊မိမိတို့လက်ကိုနွားခေါင်းပေါ်မှာ
၁၁ တင်ရကြမည်။–ပရိသတ်စည်းဝေးရာတဲတော်
တံခါးနားမှာထာဝရဘုရားရှေ့တော်၌၊ ထိုနွား
၁၂ ကိုသတ်ရမည်၊–အသွေးကိုယူ၍ယဇ်ပလ္လင်ဦး
ချိုတို့၌လက်ညှိုးနှင့် ထည့်ပြီးမှ၊ ကြွင်းသောအ
သွေးကိုယဇ်ပလ္လင်ခြေရင်းနား၌ သွန်ရမည်။–
၁၃ အဝမ်းကိုဖုံးသောဆီဥရှိသမျှ၊ အသည်းပေါ်၌ရှိ
သော အမြှေး၊ ကျောက်ကပ် နှစ်ခု နှင့် ကျောက်
ကပ် ဆီဥ ကိုယူ၍၊ ယဇ်ပလ္လင်ပေါ်မှာ မီးရှို့ရ
၁၄ မည်၊– နွား၏အသား၊အရေ၊ချေးနှင့်ကိုကား၊တပ်
ပြင်မှာမီးရှို့ရမည်၊အပြစ်ဖြေရာယဇ်ဖြစ်၏၊
၁၅ သိုးထီးတကောင်ကိုလည်းယူ၍၊ အာရုန်နှင့်
သူ၏ သားတို့သည်၊ မိမိတို့ လက်ကို သိုးခေါင်း
၁၆ ပေါ်မှာတင်ရမည်၊– ထိုသိုးကိုသတ်ပြီးလျှင်အ
သွေးကိုယူ၍၊ ယဇ်ပလ္လင်အပေါ်နားပတ်ထည့်
၁၇ ၌ဖြန်းရမည်၊–သိုးကိုလည်းအပိုင်းပိုင်းဖြတ်၍၊
ဝမ်းထဲ၌ရှိသောအရာနှင့်ခြေတို့ကို ဆေးကြော
ပြီးလျှင်၊ခေါင်းနှင့်သားတစ်များကိုစုထား၍၊–
၁၈ သိုးတကောင်လုံးကို ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရ
မည်၊ထာဝရဘုရားအားမီးရှို့သောယဇ်ဖြစ်၏၊
ထာဝရ ဘုရား အားမီးဖြင့် ဆက်ကပ် ၍၊ မွှေး
ကြိုင်သောပူဇော်သကာဖြစ်၏၊
၁၉ အခြားသောသိုးကိုထည်းယူ၍၊ အာရုန်နှင့်
သူ၏သားတို့သည် မိမိတို့လက်ကိုသိုးခေါင်းပေါ်
၂၀ မှာတင်ရမည်၊–ထိုသိုးကိုသတ်ပြီးလျှင်အသွေး
ကိုယူ၍၊ အာရုန်၏လက်ျာနားဖျားသီး၌၎င်း၊သူ၏
သားတို့၏လက်ျာနားဖျားသီး၌၎င်း၊သူတို့၏လက်ျာ
လက်မ၌၎င်း၊ လက်ျာခြေမ၌၎င်းထည့်၍၊ ယဇ်
၂၁ ပလ္လင် အပေါ်ပတ်လည်၌ဖြန်းရမည်။– ယဇ်
ပလ္လင်ပေါ်မှာရှိသောအသွေးနှင့် လိမ်းစရာဆီ
ကိုယူ၍၊ အာရုန်နှင့် သူ၏ အဝတ်၌၎င်း၊ သူ၏

ဆဲခါးထို့နှင့်ရှေ့ထိုးအဝတ်ဦးရုပ်ဖြိန်းထမြင့်၊ အာ
ရုန်မှစ၍ သားရှား၊ အဝတ်ရှားထိုသည်သန့်
၂၂ ရှင်းကြထိမ့်မည်၊-ထိုသိုးသည်အရာ၌ခန့်ထား
ရာသိုးဖြစ်သောကြောင့်၊ ဆီဥ၊ အမြီး၊ အူကို
ဖုံးသောဆီဥ၊ အသည်းပေါ်၌ ရှိသော အမြှေး၊
ကျောက်ကပ်နှစ်ရုံနှင့်ကျောက်ကပ်ကိုဖုံးသော
၂၃ ဆီဥ၊ ထက်ကျောပနံ၊- ထာဝရဘုရား ရှေ့တော်၌
ထားသော၊ တဆေးခဲ့ရန်တောင်းထဲက ရန့်တ
ထုံး၊ဆီနှင့်ထုပ်သောရန့်ပြားတပြား၊ ရန့်ကြွပ်
၂၄ တချပ်ကိုယူ၍- အာရုန်ထက်၊ သူ၏သားတို့
ထက်၌ ထိုအရာတို့ကို ထားပြီးလျှင်၊ ထာဝရ
ဘုရားရှေ့တော်၌မြှောက်၍၊ မြှောက်သောပူဇော်သ
၂၅ ကာပြုရမည်၊-ထိုအရာတို့ကိုသူတို့လက်မှခံယူ
၍ ထာဝရဘုရားရှေ့တော်တွင် မွှေးကြိုင်သော
အနံ့ဖြစ်စေခြင်းငှါ၊ ယဇ်ပလ္လင်၌မီးရှို့ရာယဇ်
အပေါ်မှာရှို့ရမည်၊ ထာဝရဘုရားအားမီးဖြင့်
၂၆ ပြုသောပူဇော်သက္ကာဖြစ်၏၊-အာရုန်၏အရာ၌
ခန့်ထားရာ သိုး၏ ရင်ပတ် ကို ယူ၍၊ ထာဝရ
ဘုရား ရှေ့တော်၌ မြှောက်သဖြင့်၊ မြှောက်သော ပူ
ဇော်သက္ကာပြုပြီးမှ၊ ထိုး၏ရင်ပတ်သည်သင်၏
၂၇ အဘို့ဖြစ်ရမည်၊- ထိုသို့အာရုန်နှင့်သားတို့၏အ
ရာ၌ ခန့်ထားရာသိုးထဲက၊ မြှောက်သောပူဇော်သ
ကာပြု၍၊ မြှောက်သောရင်ပတ်ကိုငှင်၊ မြှောက်
သော ပူဇော်သက္ကာပြု၍၊ မြှောက်သောပခုံး
၂၈ ကိုငှင် သန့်ရှင်းစေပြီးမှ၊- ထိုရင်ပတ်၊ ပခုံးတို့
သည်ထာဝရပညတ်တော်အတိုင်း၊ ဣသရေလ
အမျိုးသားလှူသောအာရုန်၏အဘို့၊ သူသားတို့
၏အဘို့ ဖြစ်ရမည်၊ ဣသ ရေလ အမျိုးသား ပြု
သော မိဿဟာယယဇ်ထဲက၊ ထာဝရဘုရား
ရှေ့တော်၌မြှောက်၍၊ မြှောက်ရာပူဇော်သ
ကာဖြစ်၏။

၂၉ အာရုန်၏သန့်ရှင်းသော အဝတ်တန်ဆာကို၊
သူ၏သားတို့သည်အမွေခံသဖြင့်၊ဆီလိမ်းခြင်း
မင်္ဂလာနှင့် ယဇ်ပရောဟိတ်အရာ၌၊ ခန့်ထား
၃၀ သောအခါ ဝတ်ဆင်ရမည်၊-အာရုန်ကိုယ်စား
ယဇ် ပရော ဟိတ် လုပ်သော သားသည်၊ သန့်
ရှင်းရာ ဌာန ၌ အမှုတော်ကို ဆောင် ခြင်း ငှါ၊
ပရိသတ် စည်းဝေးရာထဲတော်သို့ဝင်သောအ
ခါ၊ ခုနစ်ရက်ပတ်လုံးဝတ်ဆင်ရမည်။

၃၁ အရာ၌ ခန့်ထားရာသိုး၏ အသားကို ယူ၍၊
၃၂ သန့်ရှင်းရာဌာန၌ပြုတ်ပြီးမှ၊- အာရုန်နှင့်သူ၏
သားတို့သည်၊ ထိုအသား ကိုငှင်၊တောင်းထဲ၌
ရှိသော ရန့်ကိုငှင်၊ ပရိသတ် စည်းဝေးရာထဲ
၃၃ တော် တံခါး နားမှာ စားရကြမည်၊- သူတို့ကို
သန့်ရှင်းစေ၍၊ အရာ၌ခန့်ထားစေခြင်းငှါ၊ အ
ပြစ်ဖြေရာမင်္ဂလာပြုခြင်းနှင့်ဆိုင်သောအရာတို့
ကို၊သူတို့သည်စားရကြမည်၊ထိုအရာတို့သည်
သန့်ရှင်းသောကြောင့်၊မဆိုင်သောသူမစားရ၊-
၃၄ အရာ၌ ခန့်ထားရာနှင့်ဆိုင်သော အမဲသားဖြစ်
စေ၊ ရန့်ဖြစ်စေ၊ နံနက်တိုင်အောင် ကျန်ကြွင်း
လျှင်၊ထိုအကြွင်းကိုမီးရှို့ရမည်၊ သန့်ရှင်းသော
၃၅ ကြောင့်၊ အ ထယ် သူမျှ မစား ရ၊- ထို သို့ ငါ
ပညတ်သမျှအတိုင်း အာရုန်နှင့်၊ သူ၏သားတို့
အားပြု၍၊ ယဇ်ပရောဟိတ် အရာ၌ ခန့်ထား
ခြင်း မင်္ဂလာကို၊ ခုနစ်ရက် ပတ်လုံး ဆောင်ရ
၃၆ မည်၊-ထိုမှတပါး၊ အပြစ်ဖြေခြင်းအလို့ငှါ၊နေ့
တိုင်းနွားထီးတကောင်ကိုပူဇော်၍၊အပြစ်ဖြေ
ရာယဇ်ပြုရမည်၊ ထိုသို့ယဇ်ပလ္လင်ဆို့ အပြစ်
ဖြေခြင်းကို ပြုပြီးမှ၊ ပလ္လင်ကို စင်ကြယ် စေရ
မည်၊ထိုနောက်၊သန့်ရှင်းစေခြင်းငှါဆီနှင့်လိမ်း
၃၇ ရမည်၊- ခုနစ်ရက်ပတ်လုံး ယဇ် ပလ္လင်ဆို့ အ
ပြစ် ဖြေခြင်းကို ပြု၍ သန့်ရှင်းစေပြီးမှ၊ အလွန်
သန့်ရှင်းသောယဇ်ပလ္လင်ဖြစ်၍၊ ထိုပလ္လင်နှင့်
ထွေသမျှသောအရာတို့သည်၊သန့်ရှင်းသောအ
ရာဖြစ်ရမည်။

၃၈ ယဇ်ပလ္လင်ပေါ်မှာ ပူဇော်ရသောအရာဟူမူ
ကား၊ အခါမလည်သောသိုးသငယ်နှစ်ကောင်
၃၉ ကိုယူ၍၊- နေ့တိုင်းအစဉ်မပြတ် နံနက်ယံ၌တ
ကောင်၊ညဦးယံ၌ တကောင်ကိုပူဇော်ရမည်၊-
၄၀ သိုးသငယ်တကောင်ကို ပူဇော်သောအခါ၊ ထံ
လွှင်သီးကို ထောင်း၍၊ ရသောသံလွင်ဆီ သုံး
သော အ နှင့် ရောသော ရန့်ညက်တဩမဲကိုငှင်၊
သွန်းလောင်းရာပူဇော်သက္ကာတို့စပျစ်ရည်သုံး
သောအ ကိုငှင်၊ သိုးသငယ်နှင့်အတူ ပူဇော်ရ
၄၁ မည်၊- အခြားသောသိုးသငယ်ကိုညဦးယံ၌ပူ
ဇော်သောအခါ၊ နံနက်ယံ၌ ထောင်ညီပူဇော်
သကာ၊ သွန်းလောင်းရာပူဇော်သက္ကာပါသည်
နည်းတူပါလျှက်၊ ထာဝရဘုရားအား မီးဖြင့်
ဆက်ကပ်၍၊ မွှေးကြိုင်သောပူဇော်သက္ကာပြုရ
၄၂ မည်၊- ထိုသို့ ထင်တို့ သားစဉ် မြေးဆက် တို့
သည်၊ သင်နှင့်ငါ တွေ့၍ ပြောဆိုရာ အရပ်၊
ထာဝရဘုရားရှေ့တော်၌၊ ပရိသတ်စည်းဝေး
ရာထဲတော် တံခါးနားမှာ၊ အစဉ်မပြတ် မီးရှို့
၄၃ သောယဇ်ကိုပူဇော်ရကြမည်၊- ထိုအရပ်၌ဣ

သရေလ အမျိုးသား ထို့နှင့် ငါရွေး၍၊ ဘုန်း
၄၄ တော်အားဖြင့်သူတို့ကိုသန့်ရှင်းစေမည်။-ငွေ့
ဦးထမ်း ပရောဟိတ်အမှုကို ဆောင်စေခြင်းငှါ၊
အာရုန်နှင့်သူ၏သားတို့ကိုငှင်၊ ပရိသတ်စည်း
ဝေးရာတဲတော်ကိုငှင်၊ ယဇ်ပလ္လင်ကိုငှင်၊ ငါ
၄၅ သန့်ရှင်းစေမည်။- ဣသရေလ အမျိုးသားတို့
၄၆ တွင်ငါနေ၍၊ သူတို့၏ဘုရားဖြစ်မည်။- ငါသည်
သူတို့တွင်နေခြင်းငှါ၊ သူတို့ကိုအဲဂုတ္တုပြည်ထဲ
က၊ ထယ်နှုတ်ဆောင်ယူခဲ့သော၊သူတို့၏ဘုရား
သခင်ထာဝရဘုရား ဖြစ်ကြောင်းကို၊ သူတို့သိ
ကြထိမ့်မည်။ ငါသည်သူတို့ဘုရားသခင်ထာဝ
ရဘုရားဖြစ်၏ဟုမောရှေအားမိန့်တော်မူ၏။

၃၀

၁ ထုံချည်းထား၊ နံ့သာပေါင်းကိုမီးရှို့ရာယဇ်
၂ ပလ္လင်ကို အကာ ရှသားနှင့် လုပ်ရ မည်။- ထို
ပလ္လင်သည်အလျားတတောင်၊ အနံ တတောင်၊
စတုရန်း ထောင့်ဖြစ်၍၊ အမြင့်နှစ်တောင်ရှိ
ရမည်။ ဦးချိုတို့ကိုလည်းအကာရှသားဖြင့်ပြီး
၃ စေရမည်။- ပလ္လင်ထိပ်၊ နံရံ ဦးချို တို့ကို ရွှေစင်
နှင့်မွမ်းမံ၍၊ အပေါ်နားပတ်လည်၌ ကွပ်သော
၄ ရွှေတန်ဆာ ကိုလည်း လုပ်ရမည်။- ရွှေတန်ဆာ
အောက်၊ ပလ္လင် တဖက် တချက်ထောင့်၌၊ ရွှေ
ကွင်းနှစ်ကွင်းကိုလုပ်၍၊ ပလ္လင်ထမ်းစရာထမ်း
၅ ပိုးနေရာဖြစ်ရမည်။- ထမ်းပိုးတို့ကို အကာရှ
၆ သားနှင့်လုပ်၍၊ ရွှေနှင့်မွမ်းမံရမည်။- ငါသည်
သင်နှင့် တွေ့ရာအရပ်၊ သက်သေခံချက် ထား
သောသေတ္တာကို၊ကာသောကုလားကာရှေ့၌ထို
၇ ပလ္လင်ကိုထားရမည်။- အာရုန်သည်နံနက်တိုင်း
မီးခွက် တို့ကိုပြင်သောအခါ၊ ထိုပလ္လင်ပေါ်မှာ
၈ မွှေးသောနံ့သာပေါင်းကိုရှို့ရမည်။- ညဦးယံ၌
လည်းမီးခွက်တို့ကို ထွန်းသောအခါ၊ထိုပလ္လင်
ပေါ်မှာ နံ့သာပေါင်းကိုရှို့ရမည်။ ထိုသို့သင်တို့
အားစည်မြဲဆက်ထိုသည် ထာဝရဘုရားရှေ့
တော်၌ အစဉ်အမြဲ ပြုရသော နံ့သာ ပေါင်း ရှို့
၉ ခြင်းဖြစ်သတည်း။- ထိုပလ္လင်ပေါ်မှာ ထူးခြား
သောနံ့သာပေါင်းကိုမရှို့ရ။ မီးရှို့သောယဇ်ကို
မပြုရ။ဘောဇဉ်ပူဇော်သက္ကာကိုလည်းမပြုရ။
သွန်းလောင်းရာပူဇော်သက္ကာကိုလည်းမပြုရ။-
၁၀ အာရုန်သည် တနှစ် တခါ အပြစ် ဖြေရာ ယဇ်
ကောင် အသွေးကိုယူ၍၊ ထိုပလ္လင်၏ ဦးချိုတို့၌
အပြစ်ဖြေခြင်းမင်္ဂလာကိုပြုရမည်။သင်တို့သား
စည် မြဲဆက်ထိုအည်၊ တနှစ်တခါထိုသို့ပြုရ
ကြမည်။ ထာဝရ ဘုရားအား အလွန်သန့်ရှင်း
သောယဇ်ပလ္လင်ဖြစ်သတည်း။
၁၁ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၁၂ တော်မူသည်ကား၊- ဣသရေလ အမျိုးသားတို့
ကိုရေတွက်၍စာရင်းယူသောအခါ၊ ထေးတွက်
မည်အကြောင်း၊ ရှိသမျှတို့သည် အသီးအသီး
မိမိ အသက်ရွေးရန် အထိုးကို၊ ထာဝရ ဘုရား
၁၃ အားဆက်ကပ်ရမည်။- ရေတွက်၍ စာရင်းဝင်
သော သူ အပေါင်း ထိုသည် အကျပ် တော် အ
ထိုက်၊ ငွေအကျပ်တဝက်မီထာဝရ ဘုရားအား
ဆက်ကပ်ရမည်။ အကျပ်ကား၊ ဂေရနှစ်ဆယ်
၁၄ ဖြစ်သတည်း။- အသက်နှစ်ဆယ်မှစ၍၊ ပိုလွန်
သောသူအပေါင်းတို့သည်စာရင်းဝင်၍၊ ထိုသို့
သောပူဇော်သက္ကာကို၊ ထာဝရဘုရားအားပြုရ
၁၅ မည်။- ကိုယ်အသက်ကို ရွေးခြင်းငှါ၊ ထာဝရ
ဘုရားအားပူဇော်သက္ကာ ကိုပြုသောအခါ၊ ငွေ
ရတတ်သော သူတို့သည်မပို၊ ဆင်းရဲသော သူ
တို့သည် မရော့တဲ၊ လူတိုင်း အကျပ် တဝက်စီ
၁၆ ပေးရမည်။-ဣသရေလအမျိုးသားတို့၏အစေ့ရွေး
ငွေကိုယူ၍၊သူတို့အသက်ကိုရွေးခြင်းငှါ၊ ထာ
ဝရဘုရားရှေ့တော်၌ ဣသရေလအမျိုးသားတို့
၏သက်သေ ဖြစ်ရမည် အကြောင်း၊ ပရိသတ်
စည်းဝေးရာတဲတော်စရိတ်အဖို့အထိုငှါ၊ ထား
ရမည်ဟုမိန့်တော်မူ၏။
၁၇ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၁၈ တော်မူသည်ကား၊- အာရုန်နှင့် သူ၏သား တို့
ထက်ခြေဆေးစရာဖို့၊ ကြေးဝါခြေထောက်ပါ
သော ကြေးဝါ အင်တုံကို လုပ်၍၊ ပရိသတ်
စည်းဝေးရာ တဲတော်နှင့်၊ ယဇ်ပလ္လင်စပ်ကြား
၁၉ ၌ထားရမည်။-သူတို့သည်ပရိသတ်စည်းဝေး
၂၀ ရာတဲတော်သို့ဝင်သော်၎င်၊ အမှုတော်ကိုထမ်း
၍ထာဝရ ဘုရား အား မီးရှို့သော ယဇ်ကို ပူ
ဇော်ခြင်းငှါ၊ ယဇ်ပလ္လင် အနားသို့ ချဉ်းကပ်
၂၁ သော် ၎င်၊- သေ ဘေး နှင့် ကင်း လွတ် မည် အ
ကြောင်း၊မိမိတို့လက်ခြေကိုဆေးရမည်။ ထိုသို့
သူတို့နှင့် သူတို့အမျိုးအနွယ် အစဉ် အဆက်
ထိုသည်စောင့်ရသောပညတ်တော်ဖြစ်သတည်း
ဟုမိန့်တော်မူ၏။
၂၂ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂၃ တော်မူပြန်သည်ကား၊- သင်သည် မြတ်သော
နံ့သာမျိုးကို အကျပ် တော်နှင့် မှိန်ထွေး၊ ငါး
ကြယ်သော ရှုရှန်မဲလေးအကျပ်ခြောက်ရာ၊ မွှေးသော

ထက်ကြီပိုး နှစ်ရာငါး ဆယ်၊ ရွှေသောကြီ နှစ်ရာ
၂၃ ငါးဆယ်၊- ထက်ကြီပိုး တရှူးငါးရာ ထံလွှင်ဆီ
၂၄ တဟိန်ကို ယူ၍၊- ဆေး ထမား ဇာတက်နှင့် စ
ထောင်းဆီကိုဖော်တတ်သည့် အတိုင်း၊ လိမ်းရန်
ဆီ တည်းဟူသော၊ သန့်ရှင်းသော နံ့သာဆီကို
၂၅ ဖော်ပြီးမှ၊- ပရိသတ် စည်းဝေးရာ တဲတော်နှင့်
၂၆ ထက်သေခံချက် သေတ္တာကိုင်၊- စားပွဲနှင့် စား
ပွဲတန်ဆာရှိသမျှကိုင်၊ မီးခုံနှင့်၊ မီးခုံတန်ဆာ
၂၇ ကိုင်၊ နံ့သာပေါင်း မြှိုသော ပလ္လင်၊- မီးရှို့ရာ
ယဇ် ပူဇော်သော ပလ္လင်နှင့်၊ ပလ္လင်တန်ဆာ ရှိ
သမျှကိုင်၊ ဆင်တုံနှင့် ဆင်တုံ ခြေထောက် ကို
၂၈ ငင်၊ ထိုနံ့သာဆီနှင့် လိမ်းသဖြင့်၊- ထိုအရာတို့
ကို အလွန် သန့်ရှင်းစေခြင်းငှါ၊ ထိုသို့သန့်ရှင်း
စေရမည်၊ ထိုအရာတို့နှင့် တွေ့သမျှသော အရာ
၂၉ သည်၊ သန့်ရှင်းသောအရာဖြစ်ရမည်၊-အာရုန်
နှင့်သူ၏သားတို့ကိုလိမ်း၍၊ သူတို့သည်ငါ့အဖို့
ယဇ် ပုရောဟိတ် အမှုကို ဆောင်စေ ခြင်း ငှါ
၃၀ ထက်ပုရောဟိတ်အရာ၌ခန့်ထားရမည်၊-ဣသ
ရေလ အမျိုးသားတို့အား ဆင့်ဆို ရမည်မှာ၊
သင်တို့သား၊ စည်မြေးဆက်အပေါင်းတို့၌ ဤဆီ
သည်၊ ငါ့အဖို့သန့်ရှင်းသော လိမ်းရန်ဆီဖြစ်ရ
၃၁ မည်၊-လူ၏ကိုယ်ပေါ်မှာမလောင်းရ၊ ထိုဆီကို
ဖော်သည်နည်းတူ၊ အခြားသောဆီကိုမဖော်ရ၊
သန့်ရှင်းသည်ဖြစ်၍၊ သန့်ရှင်းသည်ဟုသင်တို့
၃၂ သည် မှတ်ရမည်၊- ထိုဆီနှင့် တူအောင် ဖော်
သောသူ၊ မဆိုင်သောလူ၌ လိမ်းသောသူ မည်
သည်ကား၊ မိမိအမျိုးမပယ်ရှင်းခြင်းကိုခံရမည်
ဟုမိန့်တော်မူ၏။
၃၃ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
တော်မူသည်ကား၊ မွှေးသောနံ့သာ မျိုးတည်း
ဟူသော နတပ်ဆေး၊ မွှေးသောငါးခွံ၊ ဂါလဗန်
ဆေး၊ စင်သောလောဗန်ဆေးတို့ကို အညီအမျှ ရှိန်
၃၄ ယူ၍၊- ဆေးဘွား အတတ်နှင့် နှာဆေးကိုဖော်
တတ်သည် နည်းတူ ရောနှော၍၊ သန့်ရှင်း စင်
၃၅ ကြယ်သောနံ့သာပေါင်းကို ဖော်ရမည်၊-အချို့
ကိုလည်း ညက်ညက်ထောင်းပြီးမှ၊ ငါသည်သင်
နှင့်တွေ့ရာ အရပ်၊ ပရိသတ် စည်းဝေးရာ တဲ
တော်၌သက်သေခံချက်ရှေ့မှာထားရမည်၊ သင်
၃၆ ထိုတွင် အလွန်သန့်ရှင်းရမည်၊- ထိုသို့သောနံ့
သာပေါင်းကိုဖော်သည်နည်းတူ၊ အခြားသော
နံ့သာပေါင်းကို ကိုယ်သုံးဘို့ မဖော်ရ၊ သင်တို့
၃၇ တွင် ထာဝရဘုရားအဘို့ သန့်ရှင်း ရမည်၊- အ
ကြင်သူသည်မိမိ ရှူစရာဘို့ထိုနံ့သာပေါင်းနှင့်တူ
အောင်ဖော်၏၊ ထိုသူသည်မိမိအမျိုးမှ ပယ်ရှင်း
ခြင်းကိုခံရမည်ဟုမိန့်တော်မူ၏။

၃၁

၁ တဖန် ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော် မူပြန်သည်ကား၊- ယုဒအမျိုး ငါ
သည်ယုဒအမျိုးသား ဟုရ၏သားဖြစ်သော ဥ
ရိ၏သား ဗေဇလေလကို အမည်ဖြင့်ခန့်ထား
၃-၅ ၏၊- သူသည် ရွှေငွေကြေးဝါကို ထုပ်သော အ
တတ်၊ ကျောက်ကိုသွေး၍ စီသောအတတ်၊ သစ်
သားကို ထုလုပ်သော အတတ်နှင့်၊ အမျိုးမျိုး
သော အလုပ်ကို လုပ်ဆန်းစွာ လုပ်တတ်မည် အ
ကြောင်း၊ ညာဏ်ပညာနှင့်တကွ၊ ထိုပွဲအတတ်
အမျိုးမျိုးတို့ကိုငါပေး၍၊ ဘုရားသခင်၏ဝိညာဉ်
၆ တော်နှင့် ပြည့်စုံစေ၏၊- သူနှင့်အတူ ဒန်အမျိုး
သား အဟိသမတ်၏သား အဟောလျဗ ကို
လည်း ငါခန့်ထား၏၊ ငါသည်သင့်အားမှာထား
သမျှတို့ကို၊ လိမ္မာသော သူအပေါင်း တို့သည်
လုပ်တတ်မည်အကြောင်း၊ သူတို့နှစ်ယောက်ထဲ၌
ညာဏ်ပညာကိုငါသွင်းထားပြီ၊-ထိုသူတို့သည်
၇ ပရိသတ် စည်းဝေးရာ တဲတော်၊ သက်သေခံ
ချက်သေတ္တာ၊ သေတ္တာအပေါ်မှာတင်သောသက်
၈ သာ အဖုံး၊ တဲတော်တန်ဆာရှိသမျှကိုင်၊-စား
ပွဲနှင့်စားပွဲတန်ဆာကိုင်၊ စင်ကြယ်သောမီးခုံ
နှင့် မီးခုံတန်ဆာရှိသမျှကိုင်၊ နံ့သာပေါင်းမြှို
၉-၁၀ သောပလ္လင်၊- မီးရှို့ရာယဇ်ပူဇော်သောပလ္လင်
တန်ဆာ ရှိသမျှကိုင်၊ ဆင်တုံနှင့် ဆင်တုံခြေ
ထောက်ကိုင်၊- အမှုတော် ကို ထမ်းစရာ အ
ဝတ်၊ ယဇ်ပုရောဟိတ်အမှုကို ဆောင်သောအ
ခါ၊ ယဇ်ပုရောဟိတ်အာရုန်နှင့်သူ၏သားဝတ်
၁၁ ရုံ၊သန့်ရှင်းသောအဝတ်ကိုင်၊-လိမ်းစရာဆီ
နှင့်သန့်ရှင်းရာဌာန၌ သုံးဘို့နံ့သာပေါင်း မွှေး
ကိုင်၊ ငါမှာထားသမျှအတိုင်း လုပ်ရကြမည်
ဟုမိန့်တော်မူ၏။
၁၂ တဖန် ထာဝရဘုရားက၊ သင်သည်ဣသရေ
၁၃ လ အမျိုးသားတို့အား ဆင့်ဆိုရမည်မှာ၊- ငါ
သည် သင်တို့ကိုသန့်ရှင်းစေသောထာဝရဘုရား
ဖြစ်ကြောင်းကိုသင်တို့သိစေခြင်းငှါ၊ ငါနှင့်သင်
တို့၏ သားစည်မြေးဆက်စပ်ကြား၌၊ လက္ခဏာ
ထက်သောဖြစ်သည်ဖြစ်၍၊ ဥပုသ်နေ့ကို စင်စစ်စောင့်
၁၄ ရကြမည်။- ဥပုသ်နေ့သည် သင်တို့အား သန့်
ရှင်းသောနေ့ဖြစ်ကြောင့်၊ ထိုနေ့ကိုစောင့်ရကြမည်၊ ဥ

ဥပုသ်နေ့ကိုဖျက်သောသူတိုင်း အသေခံရမည်။
ထိုနေ့၌အလုပ်လုပ်သောသူမည်သည်ကား၊ မိမိ
၁၅ အမျိုးမှ ပယ်ရှင်း ခြင်းကို ခံရမည်။- ခြောက်
ရက် ပတ်လုံး အလုပ် လုပ်ရ မည်၊ သတ္တမ နေ့
သည်ထာဝရဘုရားအားသန့်ရှင်း၍ငြိမ်ရသော
ဥပုသ်နေ့ဖြစ်၏။ဥပုသ်နေ့၌အလုပ်လုပ်သောသူ
မည်သည်ကား၊ ကေန်အမှန်အသေခံရမည်။-
၁၆ သို့ဖြစ်၍ဣသရေလအမျိုးသားအစဉ်အဆက်
တို့သည်၊ ထာဝရပဋိညာဉ် ဖြစ်စေခြင်းငှါ၊ ဥ
ပုသ်နေ့ရက် အစဉ်အတိုင်း ဥပုသ်စောင့်ရကြ
၁၇ မည်။- ထိုသို့စောင့်လျှင်၊ ငါနှင့်ဣသရေလအ
မျိုးသား စပ်ကြား၌၊ ထာဝရလက္ခဏာ သက်
သေဖြစ်လိမ့်မည်။ အကြောင်းမူကား၊ ထာဝရ
ဘုရားသည် မိုဃ်းကောင်းကင်နှင့်မြေကြီးကို၊
ခြောက်ရက်တွင်ဖန်ဆင်း၍၊ သတ္တမနေ့ရက်၌
ငြိမ်ဝပ်စွာနေလျက်အားဖြည့်တော်မူသည်ဟု၊
၁၈ မောရှေအားမိန့်တော်မူ၏။- ထိုသို့ဘုရားသခင်
သည် သိနာ တောင်ပေါ်မှာ၊ မောရှေနှင့် နှုတ်
ဆက်တော်မူသည်အဆုံး၌၊ လက်ညှိုးတော်နှင့်
အက္ခရာ တင်သော၊ သက်သေခံချက် ကျောက်
ပြားနှစ်ပြားကိုပေးတော်မူ၏။

၃၂

၁ မောရှေသည်တောင်ပေါ်မှာ၊ကြာမြင့်စွာရှိနေ
ကြောင်းကို လူများတို့သည်သိမြင်သောအခါ၊
အာရုန်ထံသို့စည်းဝေးကြ၍၊ထပါ၊ ငါတို့ရှေ့မှာ
သွားရသောဘုရားတို့ကို၊ငါတို့အဖို့လုပ်ပါ။ငါ
တို့ကိုအဲဂုတ္တုပြည်မှနှုတ်ဆောင်သောထိုမော
ရှေ၌၊ အဘယ်သို့ဖြစ်သည်ကို ငါတို့မသိပါဟု
၂ ပြောဆိုကြ၏။-အာရုန်ကလည်း၊သင်တို့မယား
သားသမီးများ၏နားး၌ဆွဲသော၊ ရွှေနားတောင်း
များကိုချွတ်၍၊ငထံသို့ဆောင်ခဲ့ကြဟုဆိုလျှင်၊-
၃ လူအပေါင်းတို့သည်၊ မိမိတို့နား၌ ဆွဲသောရွှေ
နားတောင်းများကိုချွတ်၍၊အာရုန်ထံသို့ဆောင်
၄ ခဲ့ကြ၏။- အာရုန်သည်လည်းထက်ခံ၍၊ နွား
သငယ်ရုပ်ပုံသဏ္ဌာန်ကို၊ ကညစ်နှင့်ရေးသား
ပြီးလျှင်သွန်းလေ၏။ လူများတို့ကလည်း၊ အိုဣ
သရေလအမျိုး၊ ဤဘုရားသည်သင့်ကိုအဲဂုတ္တု
ပြည်မှနှုတ်ဆောင်သော၊ သင်၏ဘုရားဖြစ်တော်
၅ မူသည်ဟုဆိုကြ၏။-အာရုန်သည်ထိုအမှုကိုသိ
မြင်လျှင်၊ ရုပ်တုရှေ့မှာ ယဇ်ပလ္လင်ကိုတည်၍၊
နက်ဖြန်နေ့သည် ထာဝရဘုရားအဖို့ပွဲခံရသော
နေ့ဖြစ်သည်ဟု၊ ထပ်ကိုထည့်၍ ကျော်ညာစေ
၆ ၏။- နက်ဖြန်နံနက်စောစော လူတို့သည်ထ၍၊
မီးရှို့ရာယဇ်၊ မိဿဟာယ ယဇ်တို့ကိုပူဇော်
ပြီးမှ၊ စားသောက်လျက်ထိုင်နေကြ၏။ နောက်
တဖန်ကစုန်ခြီးထူးခြင်းငှါထကြ၏။
၇ ထာဝရဘုရားက၊သင်သည်ဆင်းသွားလော့၊
အဲဂုတ္တုပြည်မှ သင်နှုတ်ဆောင်ခဲ့သော သင်၏
၈ လူတို့သည်ဖောက်ပြန်ကြပြီ။-ငါမှာထားသော
ထမ်းမှ အလျင်အမြန်လွှဲသွား၍၊ နွားသငယ်
ရုပ်ကိုသွန်းပြီးလျှင်၊ အိုဣသရေလအမျိုး၊ ဤ
ဘုရားသည်သင့်ကိုအဲဂုတ္တုပြည်မှနှုတ်ဆောင်
ခဲ့သောဘုရားဖြစ်တော်မူ၏ဟုဆိုလျက်၊ ရုပ်တု
ရှေ့မှာ ယဇ်ပူဇော် ကိုးကွယ်ကြပြီ ဟူ၍၎င်း၊-
၉ ဤလူမျိုးကို ငါကြည့်မြင်ပြီ၊ ထည်ပင်းခိုင်မာ
၁၀ သောအမျိုးဖြစ်၏။ သို့ဖြစ်၍ ငကိုရှိစေတော့၊
ငါသည်အမျက်ပြင်းစွာထွက်၍၊သူတို့ကိုဖျက်
ဆီးမည်၊ သင့်ကိုကား၊ကြီးသောအမျိုးဖြစ်စေ
၁၁ မည်ဟူ၍၎င်း၊မောရှေအားမိန့်တော်မူ၏။- မော
ရှေ ကလည်း၊ အိုထာဝ ရဘုရား၊ ကိုယ်တော်
သည်မဟာတန်ခိုး၊အားကြီးသောလက်နှင့်အဲ
ဂုတ္တုပြည်မှနှုတ်ဆောင်ခဲ့သော၊ ကိုယ်တော်၏
လူ တို့ကို၊ အဘယ် ကြောင့် အမျက် ပြင်း စွာ
၁၂ ထွက်တော်မူသနည်း။-အဲဂုတ္တုလူတို့ကလည်း၊
ဘုရားသခင်သည် မကောင်းသော အကြံ ရှိသ
ဖြင့်၊ သူတို့ကိုတောတောင်များ၌သတ်၍၊ မြေ
ကြီးပေါ်က သုတ်သင် ပယ်ရှင်းခြင်း အလို ငှါ
သာ၊ နှုတ်ဆောင်လေသည်ဟု၊အဘယ်ကြောင့်
ဆိုပွယ် အကြောင်း ရှိရပါမည်နည်း။ ပြင်းစွာ
သော အမျက်တော်ကို ပယ်တော် မူပါ။ ကိုယ်
တော်၏လူတို့၌ ဤသို့အပြစ်ပေးမည်အကြံကို၊
၁၃ နောင်တရတော်မူပါ။- ကိုယ်တော်က၊ သင်တို့
အမျိုးအနွယ်ကို ကောင်းကင်ကြယ်ကဲ့သို့ ငါ
များပြား စေမည်။ ငါပြောခဲ့သော ဤမြေရှိသမျှ
ကို၊ သင်တို့အမျိုးအနွယ်အား ငါပေးသဖြင့်၊
သူတို့သည် အစဉ်အမြဲအမွေခံရကြလိမ့်မည်
ဟု၊ ကိုယ်ကိုကိုယ်တိုင်တည်၍ကျိန်ဆိုတော်မူ
သော စကားကိုခံခဲ့ပြီးသော၊ ကိုယ်တော်၏ကျွန်
အာဗြဟံ၊ဣဇာက်၊ ဣသရေလ တို့ကို အောင်း
မေ့တော်မူပါဟု၊ မိမိဘုရားသခင်ထာဝရဘုရား
၁၄ ရှေ့တော်၌ တောင်းပန်လေ၏။- ထာဝရ ဘုရား
သည်၊ မိမိလူတို့အား အပြစ် ပေးမည်အကြံကို
နောင်တရတော်မူ၏။
၁၅ မောရှေသည် သက်သေခံချက် ကျောက်ပြား

နှစ်ပြားကို ကိုင်လျက်လျက်၊ တောင်ပေါ်
အဆင်းသွားလေ၏၊ ထိုကျောက်ပြား နှစ်ဖက်
၁၆ နှာ၌အက္ခရာတင်လျက်ရှိ၏။-ထိုကျောက်ပြား
တို့သည်၊ ဘုရားသခင် ဖန်ဆင်းတော် မူသော
ကျောက် ပြား၊ စာသည် ထည်း၊ ဘုရား သခင်
၁၇ အက္ခရာတင်တော်မူသောစာ ဖြစ်သတည်း။-လူ
များကြွေးကြော်သံကို ယောရှုသည်ကြား လျှင်၊
တပ်၌ စစ်တိုက်သံကို ကြားပါသည်ဟုမောရှေ
၁၈ အား ဆို၏။- မောရှေကလည်း၊ ငါကြားသော
အသံသည် အောင်၍ကြွေးကြော်သံမဟုတ်၊ ရှုံး
၍ ငိုကြွေးသံလည်း မဟုတ်၊ သီခြင်း ဆိုသံဖြစ်
၁၉ သတည်းဟု ပြန်ပြော၏။- တပ်အနီးသို့ ရောက်
သော အခါ၊ နွားသငယ် ကိုင်ရုပ်၊ ကခုန် ခြင်းကို
မြင် လျှင်၊ မောရှေသည် အမျက်ထွက်သ
ဖြင့် ကျောက် ပြားတို့ကို ချ၍၊ တောင်ခြေရင်း၌
၂၀ ခွဲ၏။-သူတို့လုပ်သော နွားသငယ်ကိုလည်း
ယူ၍ မီးရှို့ကြိတ်၍ ညက်ညက်ခြေပြီးမှ ရေပေါ်
မှာဖျဉ်း၍၊ ဣသရေလအမျိုးသားတို့ကို သောက်
၂၁ စေ၏။- အာရုန်ကို ထည်း ခေါ်၍၊ သင်သည်သူ
တို့၌ဤမျှလောက် ကြီးသောအပြစ်ကို ရောက်
စေခြင်းငှါ၊ သူတို့သည်သင်၌ အဘယ်သို့ ပြုသ
၂၂ နည်းဟုမေးလျှင်၊- အာရုန်က၊ သခင်၊ အမျက်
မထွက်ပါနှင့်၊ ဤလူတို့သည် မကောင်းသောအ
ကြံရှိကြောင်းကို၊ ကိုယ်တော်သိပါ၏။- သူတို့
ကလည်း၊ ငါတို့ရှေ့မှာ သွားရသော ဘုရား တို့
ကို၊ ငါတို့ အဖို့လုပ်ပါ၊ ငါတို့ကိုအဲဂုတ္တုပြည်မှ
နှုတ်ဆောင်ခဲ့သောသူ၊ ထိုမောရှေ၌အဘယ်သို့
ဖြစ်သည် ကို ငါတို့ မသိပါဟု၊ အကျွန်ုပ် အား
၂၄ ပြောဆိုကြလျှင်၊- အကျွန်ုပ်က၊ ရွှေရှိသော သူ
သည် ချွတ်စေဟု ဆိုသည်နှင့် အညီ၊ သူတို့ပေး
သောရွှေကိုအကျွန်ုပ်သည် မီးထဲ၌ထည့်လျှင်၊
ဤနွားသငယ် ထွက် လာ ပါ သည်ဟု ပြန် ပြော
၂၅ ၏။- ထိုသို့အာရုန်သည် လူများကိုရန်သူတို့ရှေ့
မှောက်၌၊ အဝတ်တန်ဆာကိုချွတ်စေသည်ဖြစ်
၍၊ အဝတ်တန်ဆာအချည်းစည်းရှိကြကြောင်း
၂၆ ကိုမောရှေမြင်သောအခါ၊-တပ်တံခါးဝမှာရပ်
လျက်၊ထာဝရဘုရားဘက်၌ အဘယ်သူနေသ
နည်း။ ငါ့ထံသို့ လာစေဟု ဆိုလျှင်၊ လေဝိအမျိုး
သားအပေါင်းတို့သည် သူထံ၌စည်းဝေးကြ၏။-
၂၇ မောရှေကလည်း၊ လူတိုင်း ထား လွယ် လျက်
တပ်တဖက်နှာတံခါးမှ၊ တဖက်နှာတံခါးတိုင်
အောင် ရှောက်သွားလာ၍၊ အသီးအသီးမိမိ

ညီအစ်ကို၊ မိမိအပေါင်းအဖော်၊ မိမိအိမ်နီးချင်း
ကိုသတ်စေဟု၊ ဣသရေလအမျိုး၏ဘုရားသခင်
၂၈ ထာဝရဘုရား၊ အမိန့်ရှိတော်မူသည်ဟု၊- မော
ရှေ မိန့်သည် အတိုင်း၊ လေဝိ အမျိုး သား တို့
သည်ပြု၍၊ ထိုနေ့၌လူသုံးထောင်လောက် သေ
၂၉ ကြ၏။- တခန်မောရှေက၊ ထာဝရ ဘုရားသည်
ထနေ့ ကောင်းကြီးပေးတော်မူစေခြင်းငှါ၊ သ
တို့သည်အသီးအသီးကိုယ်သား၊ ကိုယ်ညီအစ်
ကို ကိုသတ်သော အားဖြင့်၊ သင်တို့သည် ယ
နေ့ကိုယ်ကိုယ်ကို သန့်ရှင်းစေကြပြီဟု ဆိုလေ၏။
၃၀ နက်ဖန်နေ့၌ထည်း၊ သင်တို့ပြစ်မှားသောအ
ပြစ်ကြီးလှ၏၊ ယခုမှာထာဝရဘုရားအထံတော်
သို့ငါတက်သွား၍၊ သင်တို့အပြစ်ဖြေ နိုင်လျှင်
ဖြေစေခြင်းငှါပြုမည်ဟု၊ မောရှေသည် လူများ
၃၁ တို့အား ဆိုပြီးမှ၊- ထာဝရဘုရားအထံတော်သို့
ပြန်သွား၍၊ အိုဘုရားသခင်၊ ဤလူတို့သည်ပြစ်
မှား သော အပြစ် ကြီး လှ ပါ၏၊ မိမိတို့ အဖို့ ရွှေ
၃၂ ဘုရားကို လုပ်ပါပြီ၊- ထိုသော် ထည်း သူတို့ အ
ပြစ်ကို လွှတ်ခြင်းငှါ အလိုတော်ရှိလျှင်၊ လွှတ်
တော်မူပါ၊ ထိုမဟုတ်၊ကိုယ်တော်ရေးတော်မူ
သောစာရင်း၌၊ အကျွန်ုပ်နာမကိုချေတော်မူပါ၊
အကျွန်ုပ် တောင်း ပန်ပါ၏ဟု လျှောက် လျှင်၊-
၃၃ ထာဝရဘုရားက၊ အကြင်သူသည် ငါ့ကိုပြစ်မှား
၃၄ ၏၊ထိုသူ၏နာမကို ငါ့စာရင်း၌ ငါချေမည်၊- သို့
ဖြစ်၍ငါမှာထားသော အရပ်သို့၊ သူတို့ကို ထခု
သွား၍ပို့ ဆောင် လော့၊ ငါ့တမန်သည် သင့်ရှေ့
မှာသွားလိမ့်မည်၊ ထိုသော်ထည်း၊ ငါသည်အ
ကြည့်အရှု ကြွလာ သောအခါ၊ သူတို့၌ အပြစ်
၃၅ ပေးလျက်ကြွလာမည်ဟုမိန့်တော်မူ၏။-အာရုန်
နှင့်လူ များတို့ သည်၊ နွား သငယ် ကို လုပ် ကြ
သောကြောင့်၊သူတို့ကိုဒဏ်ခတ်တော်မူ၏။

၃၃

၁ တခန် ထာဝရဘုရားက၊ သင်မှစ၍အဲဂုတ္တု
ပြည်မှ သင်နှုတ်ဆောင်ခဲ့သောလူတို့၊ ဤအရပ်
မှထွက်၍၊ သင်၏ အမျိုး အနွယ် အား ငါ ပေး
မည်ဟု၊ အာဗြဟံ၊ ဣဇာက်၊ ယာကုပ်၌ငါကျိန်
၂ ဆိုသောပြည်သို့ သွားကြလော့။- ကောင်းကင်
တမန်ကိုထည်း၊သင်တို့ရှေ့သို့ငါစေလွှတ်၍၊ သူ
သည်ခါနနိလူ၊ အာမောရိလူ၊ ဟိတ္တိလူ၊ ဖေရဇိ
၃ လူ၊ ဟိဝိလူ၊ ယေဗုသိလူတို့ကို နှင်ထုတ်၍၊- နို့
နှင့်ပျားရည်စီးသောပြည်သို့၊သင်တို့ကိုပို့ဆောင်
လိမ့်မည်၊သင်တို့နှင့်အတူငါကိုယ်တိုင်စသွား

ထင်ရိုးသည် ထည့်ပင်းမိုင်မသောသောလူမျိုးဖြစ်
သောကြောင့်၊ လမ်း၌သွားစဉ်၊ သင်တို့ကိုငါ
ဖျက်ဆီးမည် မိုးရိပ်ရောက်သည်ဟု၊ မောရှေ
၄ အားမိန့်တော်မူ၏။— ထိုမကောင်းသောသိတင်း
ကိုလူများ ထိုသည် ကြားသောအခါ၊ မိုကျွး
ငြည်တမ်းလျှက်၊ အဘယ်သူမျှတန်ဆာမဆင်
၅ ထဲနေကြ၏။— အကြောင်းမူကား၊ထာဝရဘုရား
က၊သင်သည်ဣသရေလအမျိုးသားကို ဆင့်ဆို
ရမည်မှာ၊ သင်တို့သည် ထည့်ပင်းမိုင်မသော
အမျိုးဖြစ်ကြ၏၊ သင်တို့အထဲ၌ ရုတ်ချည်းငါ
ပေါ်လာ၍ ဖျက်ဆီးမည်၊ ထိုကြောင့်သင်တို့၌
အဘယ်သို့ငါပြုရမည်ကို ငါသိမြင်း၄ါ၊သင်တို့
တန်ဆာများကိုချွတ်ကြလော့ဟု မောရှေအား
၆ မိန့် တော် မူနှင့် သတည်း။— ဣသရေလအမျိုး
သားတို့သည်ဟောရပ်တောင်ခြေရင်း၌၊ မိမိတို
တန်ဆာများကိုချွတ်ကြ၏။
၇ မောရှေသည်တဲတော်ကိုယူ၍၊တပ်ပြင်၌ခပ်
ဝေးဝေးသောက်ပြီးလျှင်၊ပရိသတ်စည်းဝေး
ရာတဲဟူ၍ ခေါ်ဝေါ်၏။ ထာဝရဘုရားကိုရှာ
သောသူအပေါင်းတို့သည်၊ တပ်ပြင်၌ရှိသော
ပရိသတ်စည်းဝေးရာတဲတော်သို့ ထွက်သွား
၈ ကြ၏။— မောရှေသည် တဲတော်သို့ ထွက်သွား
သောအခါ၊ လူအပေါင်းတို့သည်ထ၍ အသီးအ
သီးမိမိတို့ တဲတံခါးဝ၌ရပ်လျက်၊ တဲတော်အ
ထဲသို့ မောရှေ ဝင်သည် တိုင်အောင် ကြည့်ရှု
၉ လျက်နေကြ၏။— မောရှေသည်တဲတော်အထဲသို့
ဝင်ပြီးမှ၊မိုဃ်းတိမ်တိုင်ဆင်းသက်၍ တဲတော်
တံခါးဝ၌ရပ်အဖြစ်၊ ထာဝရဘုရားသည် မော
၁၀ ရှေနှင့် နှုတ်ဆက်တော်မူ၏။— တဲတော်တံခါးဝ
၌မိုဃ်းတိမ်တိုင် ရပ်နေသည်ကိုမြင်လျှင်၊ လူ
အပေါင်းတို့သည်ထ၍၊ အသီးအသီး မိမိတို့တဲ
၁၁ တံခါးဝ၌ကိုးကွယ်ကြ၏။—ထာဝရဘုရားသည်၊
အဆွေခင်ပွန်းချင်းကို နှုတ်ဆက်တတ်သည်
နည်းတူ၊ မောရှေနှင့် မျက်နှာချင်း ဆိုင်၍ နှုတ်
ဆက်တော်မူ၏။မောရှေသည် တပ်ထဲသို့ပြန်ဝင်
သောအခါ၊ သူ၏ လက်ထောက်၊ နုန်၏သား
ယောရှု မည်သောလုလင် သည်၊ တဲတော်မှမ
ထွက်ဘဲနေ၏။
၁၂ မောရှေကလည်း၊ ဤလူတို့ကိုခေါ်ဆောင်လော့
ဟုကိုယ်တော် မိန့်တော်မူသည်တွင်၊ အကျွန်ုပ်
နှင့်အတူ အဘယ်သူကို စေလွှတ်တော်မူသည်
ကိုအကျွန်ုပ်မသိရ။ ထိုတော်သည်းကိုယ်တော်
က၊ သင့်ကိုငါသိ၏ နာမဖြင့် ငါသိ၏၊ သင်သည်
ငါ့ရှေ့၌မျက်နှာရပြီဟု၊ အကျွန်ုပ်အားမိန့်တော်
၁၃ မူပြီ။— သို့ဖြစ်၍အကျွန်ုပ်သည်ရှေ့တော်၌ မျက်
နှာရလျှင်၊ မျက်နှာရကြောင်းကိုအကျွန်ုပ်သိပါ
မည်အကြောင်း၊ကိုယ်တော်၏လမ်းကိုပြတော်မူ
ပါ။ ဤလူမျိုးသည်ကိုယ်တော်၏လူဖြစ်ကြောင်း
ကိုဆင်ခြင်တော်မူပါ၊ အကျွန်ုပ် တောင်းပန်ပါ
၁၄ ၏ဟု၊ ထာဝရဘုရားအား လျှောက်ဆို၏။— ငါ
ကိုယ်တိုင်သွား၍၊ ငြိမ်ဝပ်ခြင်းချမ်းသာကိုပေး
၁၅ မည်ဟုမိန့်တော်မူ၏။— တဖန်မောရှေက၊ကိုယ်
တော်တိုင်မသွားလျှင်၊ အကျွန်ုပ်တို့ကိုဤအရပ်
၁၆ မှပို့တော်မမူပါနှင့်။—အကျွန်ုပ်နှင့်ကိုယ်တော်၏
လူ တို့သည် ရှေ့ တော် ၌ မျက် နှာ ရ သော အ
ကြောင်း၊ သည်၊ အဘယ် သို့ ထင်ရှား ပါမည်
နည်း။ အကျွန်ုပ် တို့ နှင့် ကြွသွားတော် မူသော
အားဖြင့်သာ၊ထင်ရှားပါမည်မဟုတ်လော။ ထို
သို့အကျွန်ုပ်နှင့် ကိုယ်တော်၏လူတို့သည်၊ မြေ
ကြီးပေါ်မှာ ရှိသမျှသောလူတို့နှင့် ခြားနားရပါ
၁၇ မည်ဟု လျှောက်ဆိုလျှင်၊— ထာဝရဘုရားက၊
သင်လျှောက်သည့်အတိုင်းငါပြုမည်။သင်သည်
ငါ့ရှေ့၌ မျက်နှာရပြီ၊ သင့်ကိုသင်၏နာမဖြင့် ငါ
၁၈ သိ၏ဟု၊မောရှေအားမိန့်တော်မူ၏။— တဖန်တုံ၊
ကိုယ် တော်၏ ဘုန်းကို အကျွန်ုပ်အား ပြတော်
မူပါ၊ အကျွန်ုပ် တောင်းပန် ပါ၏ဟု လျှောက်
၁၉ လျှင်၊—ထာဝရဘုရားက၊ငါ၏ကောင်းမွန်ခြင်းရှိ
သမျှကို၊သင့်ရှေ့၌ငါရှောက်သွားစေမည်။ ထာ
ဝရဘုရား၏ နာမတော်ကိုလည်း၊ သင့်ရှေ့၌ငါ
ဘွဲ့ကြော်မည်။ ငါသည် ကျေးဇူးပြုလိုသော
သူကို ကျေးဇူး ပြုမည်။ သနားလိုသော သူကို
၂၀ လည်းသနားမည်။—သို့ရာတွင် သင်သည်ငါ့မျက်
နှာကို မမြင်နိုင်ရာ။ ငါ့မျက်နှာကိုမြင်လျှင်၊ အ
သက်ရှင်ရသောသူ တစုံတယောက်မျှမရှိဟူ၍
၂၁ ရင်၊— ငါ့အနားမှာ နေရာတခု ရှိ၏။ သင်သည်
၂၂ ကျောက်ပေါ်မှာ ရပ်ရမည်။— ငါ့ဘုန်း ရှောက်
သွားသော အခါ၊ သင့်ကို ကျောက် ကြား၌ ငါ
သွင်းထား၍၊ ငါကြွသွားသည်အမှီ၊ သင့်ကို
၂၃ လက်နှင့် ဖုံးအုပ်မည်။— လက်ကိုသိမ်းရုပ်
သောအခါ၊ ငါ့ကြောကိုသာ မြင်ရမည်။ ငါ့မျက်
နှာကိုမမြင်ရဟူ၍ငါမိန့်တော်မူ၏။

၃၄

၁ တဖန်ထာဝရဘုရားက၊ အရင်ကျောက်ပြား
နှစ်ပြားနှင့်တူအောင် ကျောက်ပြားနှစ်ပြားကို

စုတ်ထေ၁ား၊ သင်ဖျိုးဖဲ့သော အရင်ကျောက်ပြားနှစ်
ချပ်ပါသည်အတိုင်း၊ နောက်ကျောက်ပြား
၂ ပေါ်မှာ ငါရေးထားမည်။- နက်ဖြန်နံနက်သင်
သည် အသင့်နေလျက်၊ သိနာတောင်ပေါ်သို့
တက်၍၊ တောင်ထိပ်၌ ငါ့ရှေ့မှာ ကိုယ်ကိုပြ
၃ ထော၊- သင်နှင့်အတူ အဘယ်သူမျှမတက်ရ၊
တောင်တပြင်လုံး၌ လူကိုမထင်ရှားစေနှင့်၊
တောင်ခြေရင်း၌သိုးနွားတို့ကိုကျက်စားရာမပြု
စေနှင့်ဟု၊ မောရှေအားမိန့်တော်မူ၏။
၄ ထာဝရဘုရားမိန့်တော်မူသည်အတိုင်း၊ အ
ရင်ကျောက်ပြားနှင့်တူသော ကျောက်ပြားနှစ်
ပြားကိုစုတ်ပြီးမှ၊ မောရှေသည် နံနက်စောစော
ထ၍၊ ထိုကျောက်ပြားနှစ်ပြားကိုကိုင်လျက်၊ သိ
၅ နာတောင်ပေါ်သို့တက်လေ၏။- ထာဝရဘုရား
သည် မိုဃ်းတိမ်ဖြင့်ဆင်းသက်၍၊ ထိုအရပ်၌
မောရှေအနားမှာ ရပ်လျက်၊ ထာဝရဘုရား၏
၆ နာမတော်ကို ကြွေးကြော်တော်မူ၏။- ထာဝရ
ဘုရားသည် မောရှေရှေ့၌ ကြွသွားတော်မူ
လျက်၊ ထာဝရဘုရား၊ ထာဝရဘုရား၊ ချစ်သနား
ခြင်း၊ မေတ္တာကရုဏာနှင့် ပြည့်စုံ၍၊ စိတ်ရှည်
ခြင်း၊ ကျေးဇူးပြုခြင်း၊ သစ္စာစောင့်ခြင်းနှင့်ကြွယ်
၇ ဝတော်မူထသော၊- အထောင်အသောင်း ရှား
သောသူတို့အား၊ သနားခြင်းကျေးဇူးတရားကို
စောင့်တော်မူထသော၊ အဓမ္မကျင့်ခြင်း၊ တရား
လွန်ကို ဘွန်ကျူးခြင်း၊ ပြစ်မှားခြင်းအပြစ်တို့
ကိုဖြေလွှတ်နှသော်ထည်း၊ အရှည်းနှီးသက်သတ်
ဖြေလွှတ်တော်မမူထသော၊ သားမြေးဆက်၊
တတိယအဆက်၊ စတုတ္ထအဆက်တိုင်အောင်၊
အဖတို့၏အပြစ်ကိုသားတို့၌ဆပ်ပေးစီရင်တော်
မူသောဘုရားသခင်ထု၊ ကြွေးကြော်တော်မူ၏။-
၈ မောရှေသည် အလျင်အမြန် ဦးညွှတ်ချ၍ ကိုး
၉ ကွယ်လျက်၊- အိုဘုရားရှင်၊ အကျွန်ုပ်သည်ရှေ့
တော်၌မျက်နှာရလျှင်၊ အကျွန်ုပ်အရှင်သည်အ
ကျွန်ုပ်တို့နှင့်အတူ ကြွတော်မူပါစေသော၊ အ
ကျွန်ုပ်တောင်းပန်ပါ၏။ ဤလူမျိုးသည်၊ ထည်
ပင်း မိုင်မာသော အမျိုး ဖြစ်သော်ထည်း၊ အ
ကျွန်ုပ်တို့ပြစ်မှားမိသော ဒုစရိုက်အပြစ်များကို
လွှတ်၍၊ အကျွန်ုပ်တို့ကိုကိုယ်တော်အမွေဥစ္စာ
၁၀ ထိုသိမ်းယူတော်မူပါဟုလျှောက်လျှင်၊- ထာဝ
ရဘုရားက၊ ကြည့်ရှုထော၊ ငါပဋိညာည်ပြု၏။
မြေကြီးပေါ်မှာ လူမျိုး၌မပြုစဖူးသော ထူးဆန်း
သောအမှုတို့ကို၊ သင်၏လူမျိုးရှေ့မှာငါပြုမည်။

သင်ထိုအရပ်၌ ငါထာဝရဘုရား ပြုရသော အမှု
သည်၊ ကြောက်မက်ဖွယ်သောအမှုဖြစ်ကြောင်း
ကို၊ သင်ပေါင်းဖော်သော လူအပေါင်းတို့သည်
၁၁ မြင်ရကြလိမ့်မည်။- ယနေ့ငါမှာထားသော စ
ကားကိုမှတ်ထော၊ သင့်ရှေ့မှာအာမောရိလူ၊ ခါ
နာနိလူ၊ ဟိတ္တိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူ
၁၂ တို့ကို ငါနှင်ထုတ်မည်။- သင်သည် သွားရာ
သော ပြည်သူပြည်သားတို့နှင့် မိဿဟာယဖွဲ့
သဖြင့်၊ သင့်အထဲ၌ ထိုတ်မိ၍ ထဲစရာ အ
ကြောင်းမဖြစ်စေခြင်းငှါ၊ ကိုယ်ကိုကိုယ်သတိ
၁၃ ပြုထော၊- သူတို့ယဇ်ပလ္လင်များကို ဖျက်ဆီးရ
မည်၊ သူတို့ရုပ်တုဆင်းတုများကို ဖျိုးဖဲ့ရမည်။
၁၄ သူတို့အာရှရပင်များကိုခုတ်ဖျည်းရမည်။- အ
ခြားသောဘုရားကိုသင်သည်မကိုးကွယ်ရ၊ အ
ပြစ်မှိ ထိုလွှယ် အမည်ရှိသော ထာဝရ ဘုရား
သည်၊ အပြစ်မှိသည်ထု ထိုလွှတ်သော ဘုရား
၁၅ သခင်ဖြစ်တော်မူ၏။- သင်သည်ထိုပြည်သူပြည်
သားတို့နှင့်မိဿဟာယဖွဲ့သဖြင့်၊ သူတို့သည်၊
မိမိတို့ဘုရားနှင့်မှားယွင်းခြင်းကိုပြု၍၊ ထိုဘုရား
တို့အားယဇ်ပူဇော်သောအခါ၊ သင့်ကိုခေါ်၍
သင်သည်ထိုယဇ်ကောင်ကိုစားမည်တူ၍ငှါ၎င်း၊
၁၆ သင်သည်သူတို့ထွီးများကိုယူ၍၊ ကိုယ်သားတို့
နှင့် ထိမ်းမြား ပေးစားသဖြင့်၊ ထိုထွီးတို့သည်
မိမိတို့ ဘုရားနှင့် မှားယွင်းခြင်းကိုပြု၍၊ သင်၏
သားတို့ကိုထို ဘုရားတို့နှင့်မှားယွင်းစေမည်တူ
၁၇ ၍ငှါ မိုးရိမ် စရာရှိ၏။- သင်သည် ကိုယ်အဖို့
သွန်းသောဘုရားတို့ကိုမထုစ်ရ။
၁၈ သင်သည် အဗိဗထ၌ အဲဂုတ္တုပြည်မှ ထွက်
သောကြောင့်၊ ငါပညတ်သည်အတိုင်း၊ အဗိဗ
လတွင်ခုနှစ်ရက်ပတ်လုံး၊ တဆေးမဲ့မုန့်ကိုစား
၁၉ ၍ အရုမပွဲကိုခံရမည်။- သားဦး အပေါင်းတို့
သည်ငါ့ဥစ္စာဖြစ်ကြ၏၊ သင်၏တိရိစ္ဆာန်တို့တွင်
ထည်း၊ နွားဖြစ်စေ၊ သိုးဖြစ်စေ၊ သားဦးအပေါင်း
တို့သည်ငါ့ဥစ္စာဖြစ်ကြ၏။ သိုးရာတွင်၊ မြည်းသားဦး
၂၀ ကိုသိုးသငယ်နှင့်ရွေးယူရမည်။- မရွေးလိုလျှင်
မြည်းသငယ်၏လည်ပင်းကိုချိုးရမည်။ သင်၏သား
ဦးအပေါင်းတို့ကိုရွေးရမည်။ ငါ့ထံသို့အထံ
၂၁ သူမျှ လက်ချည်းမပေါ်မလာရ။- ခြောက်ရက်
ပတ်လုံး အလုပ်လုပ်ရမည်၊ သတ္တမ နေ့ရက်၌
ငြိမ်ဝပ်စွာ နေရမည်၊ ထယ်ထုစ်ရာကာလ၊ အ
သီးအနှံသိမ်းရာကာလဖြစ်သော်ထည်း၊ သတ္တ
၂၂ မနေ့ရက်၌ ငြိမ်ဝပ်စွာနေရမည်။- ချုံစပါး၏

သိမ်းရာ ပွဲသဘင်တည်း ခုနစ်သီတင်း ပွဲကိုလည်း၊
နှစ်ဆုံးသောအခါသိုထားသောပွဲကိုလည်းခံရမည်။
၂၃ သင်တို့၏ အမျိုးသား ယောက်ျား အပေါင်းတို့
သည်၊ ဣသရေလအမျိုး၏ဘုရားသခင် တည်း
ဟူသော၊ ထာဝရအရှင်ဘုရားသခင်ရှေ့တော်၌
၂၄ တနှစ်လျှင်သုံးကြိမ်၊ ရှုတ်နှာပြရကြမည်။— တ
ပါးအမျိုးသားများကိုသင်တို့ရှေ့ကငါနှင်ထုတ်
၍၊ သင်တို့နေရာနယ်ကိုငါကျယ်စေမည်။ သင်၏
ဘုရားသခင် ထာဝရဘုရားရှေ့တော်၌၊ တနှစ်
လျှင်သုံးကြိမ်၊ ရှုတ်နှာပြသွားသောအခါ၊ သင်၏
၂၅ ပြည်ကို အဘယ်သူမျှ မတပ် မက်ရ။— ငါ၏ ယဇ်
ကောင်အသွေးကိုတဆေးနှင့်ရော၍မပူဇော်ရ။
ပသခါပွဲ ယဇ်ကောင်ကို၊ နံနက်တိုင်အောင် မ
၂၆ ကြွင်းစေရ။— သင်၏မြေ၌အဦးသီးသောအသီး
အနှံ့အကောင်းဆုံးကို၊ သင်၏ဘုရားသခင်ထာ
ဝရ ဘုရား၏ အိမ်တော် ထဲသို့ ဆောင်သွင်း ရ
မည်။ ဆိတ်သငယ်ကို အမိနို့ရည်နှင့်မပြုတ်မ
၂၇ ပြုတ်ရ။— ဤစကားများကို ရေးထားလော့။ ဤ
စကားများအတိုင်း သင်မှစ၍၊ ဣသ
ရေလအမျိုးနှင့်ငါပဋိညာဉ်ပြုသည်ဟု၊ မောရှေ
၂၈ အားမိန့်တော်မူ၏။— ထိုအရပ်မှာမောရှေသည်
အစာ ကို မစား၊ ရေကို မသောက်ဘဲ၊ အရက်
လေးဆယ်ပတ်လုံး၊ ထာဝရဘုရား အထံတော်
၌ ရှိလေ၏။ ကျောက် ပြား ပေါ်မှာ ပဋိညာဉ်
စကား ပညတ်တော်ဆယ်ပါးကိုရေးထားတော်
မူ၏။
၂၉ မောရှေသည် သက်သေခံချက် ကျောက်ပြား
နှစ်ပြားကိုကိုင်လျက်၊ သိနာတောင်ပေါ်မှဆင်း
သက်သောအခါ၊ မိမိနှင့်ဘုရားသခင် နှုတ်ဆက်
တော်မူသောကြောင့်၊ မိမိမျက်နှာအရေတွန်းပ
၃၀ ကြောင်းကိုမိမိမသိ။— အာရုန်နှင့်ဣသရေလအ
မျိုးသားအပေါင်းတို့သည်၊ မောရှေကိုမြင်သော
အခါ၊ သူ၏မျက်နှာအရေတွန်းပသောကြောင့်၊
၃၁ သူ့ထံသို့ မချဉ်းမကပ်ဝံ့ကြ။— မောရှေသည်
သူတို့ကိုခေါ်၍၊ အာရုန်နှင့် ပရိသတ်သူကြီးတို့
သည် ချဉ်းကပ် ကြလျှင်၊ မောရှေ သည် နှုတ်
၃၂ ဆက်လေ၏။— ထိုနောက် ဣသရေလအမျိုးသား
အ ပေါင်းတို့သည် ချဉ်း ကပ် ကြ လျှင်၊ သိ နာ
တောင်ပေါ်မှာထာဝရဘုရားမိန့်တော်မူသမျှတို့
၃၃ ကိုသူတို့အား ဆင့်ဆိုလေ၏။— မောရှေ သည်သူ
တို့အား စကားပြော၍၊ ပြီးမှ မိမိမျက်နှာကိုဖုံး
၃၄ အုပ်လေ၏။— ထာဝရဘုရား ရှေ့တော်သို့ဝင်၍
လျှောက်သောအခါ၊ မထွက်မှီတိုင်အောင်မျက်
နှာဖုံးကို ချွတ် ထား ၏။ ထွက်၍ အမိန့်
တော်ကို၊ ဣသရေလအမျိုးသားတို့အား ဆင့်ဆို
၃၅ ၏။— ထိုသူ၏မျက်နှာအရေတွန်းပကြောင်းကိုဣသ
ရေလအမျိုးသားတို့သည်မြင်ကြလျှင်၊ တခန်အ
ထဲသို့ဝင်၍ မလျှောက်မှီ တိုင်အောင်၊ မိမိမျက်
နှာကိုဖုံးအုပ်ပြန်၏။

## ၃၅

၁ မောရှေသည်၊ ဣသရေလအမျိုး ပရိသတ်
အပေါင်းတို့ကို စည်းဝေးစေ၍၊ ထာဝရဘုရား
မိန့် တော်မူသော သင်တို့ ကျင့်ဝတ် တရား ဟူ
၂ သား။— ခြောက်ရက်ပတ်လုံးအလုပ်လုပ်ရမည်။
သတ္တမနေ့ရက်သည် သင်တို့၌သန့်ရှင်းသောနေ့၊
ထာဝရဘုရားအဖို့ငြိမ်ဝပ်စွာ နေရသောဥပုသ်
နေ့ဖြစ်၏။ ထိုနေ့၌အလုပ်လုပ်သောသူမည်သည်ကို
၃ ထား၊ အသေခံရမည်။— သင်တို့နေရာအရပ်၌၊
ဥပုသ်နေ့မှာမီးကိုမမွှေးရဟု ဆင့်ဆို၏။
၄ တခန်မောရှေသည်၊ ဣသရေလ အမျိုးသား
ပရိသတ် အပေါင်းတို့၌၊ ထာဝရ ဘုရား၏ အမိန့်
၅ တော်ကိုဆင့်ဆိုသည်ကား။— သင်တို့တွင်ထာဝရ
ဘုရားအား လှူသောအလှူကို ခွဲဆင်ကြလော့။
ကြည်ညိုသော စေတနာစိတ် ရှိသမျှသောသူတို့
၆ သည် ရွှေ၊ ငွေ၊ ကြေးဝါ၊— ပြာသောအထည်၊ မောင်း
သောအထည်၊ နီသောအထည်၊ ပိတ်ချော၊ ဆိတ်
မွေး၊— အနီဆိုးသောသိုးထီးသားရေ၊ တဟောရှသားရေ၊
၈ အကာရှ ယမ်းသား၊— လိမ်းရန်ဆီမွှေးဖို့၊ မီးထွန်း
ရာနံ့သာပေါင်းမွှေးဖော်ဖို့ရာနံ့သာမျိုး၊ မီးထွန်း
၉ ရာဆီ၊— ရှထံကျောက်၊ ဧဖုဒ်ပုရောဟိတ်သင်
တိုင်းနှင့်ရင်ဖုံး၌ စီစရာကျောက်မြတ်တည်းဟူ
သော၊ ထာဝရ ဘုရား အား လှူသော အလှူကို
၁၀ ဆောင်ခဲ့ကြလော့။— သင်တို့တွင်လိမ္မာသောသူ
၁၁ ရှိသမျှတို့သည်လာ၍၊— တဲတော်နှင့်အပေါ်တဲ၊
အပေါ်တဲအဖုံး၊ ချိတ်ချောင်း၊ ကျည်ပြား၊ ကန့်လန့်
၁၂ ကျင်၊ တိုင်၊ ခြေစွပ်တို့ကိုလည်း၊— သက်တာနှင့်သူ၏
ထမ်းဘိုး၊ သက်တာအဖုံး၊ ကာရသော ကုလား
၁၃ ကာကိုလည်း၊— စားပွဲနှင့်သူ၏ထမ်းဘိုး၊ သူ၏တန်
၁၄ ဆာ ရှိသမျှနှင့် ရှေ့တော် မုန့်တို့ကိုလည်း၊— မီးထွန်း
ရာတိုင်၊ မီးခုံနှင့်သူ၏တန်ဆာ၊ မီးခွက်များ၊ မီး
၁၅ ထွန်းရာဆီ ကိုလည်း၊— နံ့သာ ပေါင်းမီးရှို့သော
ပလ္လင်နှင့်သူ၏ ထမ်းဘိုး၊ လိမ်းရန်ဆီ၊ မွှေး
သောနံ့သာပေါင်း၊ တဲတော်တံခါးဝ ကာရန်ကု
၁၆ လားကာကိုလည်း၊— မီးရှို့ရာ ယဇ် ပူဇော်သော

ပဆွဲစ်နှင့်ကြေးဝါဆန်ခါ၊ထမ်းပိုး၊တန်ဆာရှိ
၁၇ သမျှ၊အင်တုံနှင့်ခြေထောက်ကိုင်၊- ထဲတော်
တစ်ကုလားကာ၊တိုင်၊ခြေခွက်၊ဝင်းတံခါးဝကာ
၁၈ ရောကုလားကာ ကိုင်၊-ထဲတော်တံသင်၊ ဝင်း
၁၉ တံသင်ကြိုး ရှားကိုင်၊- သန့်ရှင်းရာဌာနအ၌အ
မှုတော်ကိုထမ်းရောအဝတ်၊ ယဇ်ပုရောဟိတ်
အမှုကိုဆောင်သောအခါ၊ယဇ်ပုရောဟိတ်အာ
ရုန်နှင့်သူ၏သား၊ဝတ်၍၊သန့်ရှင်းသောအဝတ်
ကိုင်၊ ထာဝရဘုရားမှာ ထားတော်မူသမျှအ
တိုင်းလုပ်ရကြမည်ဟုထင့်ဆို၏။
၂၀ ဣသရေလ အမျိုးသား ပရိသတ် အပေါင်း
၂၁ တို့သည်၊မောရှေထံမှထွက်သွားကြ၍၊-မိမိစိတ်
နှစ်လုံး နိုးဆော်သောသူ၊ ကြည်ညိုသော စေတ
နာစိတ်ထဲသော ရှိသော သူအ ပေါင်း တို့သည်၊
ပရိသတ်စည်းဝေးရာထဲတော်လုပ်ဖို့ငှ၊အမှု
တော်ထမ်းရောဘို့ငှ၊သန့်ရှင်းသောအဝတ်ကို
ငှ၊ထာဝရဘုရားအားလှူသောအလှူကိုဆောင်
၂၂ ယူခဲ့ကြ၏။- ကြည်ညိုသော စေတနာစိတ်
ရှိသောယောကျ်ား၊မိန်းမတို့သည်၊ လက်ကောက်၊
နားတောင်း၊ ထက်စွပ်၊ နှာခေါင်းဘူး၊ ရွှေတန်
ဆာရှိသမျှကိုဆောင်ခဲ့သဖြင့်၊လှူသောသူအသီး
အသီး တို့သည်၊ ထာဝရ ဘုရားအား ရွှေကိုလှူ
၂၃ ကြ၏။-ပြာသောအထည်၊မောင်းသောအထည်၊
နီသောအထည်၊ ပိတ်ချော၊ ဆိတ်မွေး၊အနီဆိုး
သော သိုးရေ၊ တတာရှုသားရေ၊ ရှိသော သူ
၂၄ တိုင်းဆောင်ခဲ့၏။- ငွေနှင့်ကြေးဝါကို လှူသော
သူတိုင်း ထာဝရ ဘုရား အား လှူ သေ၏။ အ မှု
တော်နှင့်ဆိုင်သောအလုပ်လုပ်စရာဘို့၊ အကာ
ရှသစ်သား၊ရှိသောသူတိုင်းထည်း ဆောင်ခဲ့လေ
၂၅ ၏။-ရက်ကန်းတတ်သောမိန်းမအပေါင်းတို့သည်း၊
ကိုယ်ထတ်နှင့်ရက်၍၊ပြာသောအထည်၊မောင်း
သောအထည်၊နီသောအထည်၊ ပိတ်ချောရက်
၂၆ သမျှကို ဆောင်ခဲ့ကြ၏။- မိမိညာဏ် နိုးဆော်
သောမိန်းမ အပေါင်းတို့သည်၊ ဆိတ်မွေးကိုရက်
၂၇ ကြ၏။- သူကြီးတို့သည်ထည်း၊ရှာဟံကျောက်၊
ယဇ် ပုရောဟိတ် သင်တိုင်း နှင့်ရင် ဖုံး၌ စီစရာ
၂၈ ကျောက်ကိုင်၊- မီးထွန်းစရာဘို့၊ လိမ်းရန်ဆီ
လော်ဘို့၊ မီးရှို့ရာ နံ့သာပေါင်းမွှေး လော်ဘို့ရာနံ့
၂၉ သာမျိုးနှင့်ဆီကိုင်ဆောင်ခဲ့ကြ၏။-ထိုသို့ထာဝ
ရဘုရားသည်၊မောရှေအားဖြင့်မှာထားတော်မူ
သောအလုပ်အမျိုးမျိုး ရှိသမျှအဖို့၊ ဣသရေလ
အမျိုးသားတို့တွင်၊ကြည်ညိုသောစေတနာစိတ်
နိုးဆော်သောယောကျ်ားမိန်းမအပေါင်းတို့သည်၊
ထာဝရ ဘုရားအား ကြည်ညိုသော စိတ်နှင့် လှူ
ကြ၏။
၃၀ တဖန်မောရှေက၊ နားထောင်ကြလော့။ထာဝ
ရဘုရားသည် ယုဒအမျိုးသား ဟုရ၏ သားဖြစ်
သော၊ဥရိ၏သားဗေဇလေလကိုအမည်ဖြင့်ခန့်
၃၁-၃၃ ထားတော်မူပြီ။-သူသည်ရွှေငွေကြေးဝါကို
လုပ်သောအတတ်၊ ကျောက်ကိုသွေး၍စီသော
အတတ်၊သစ်သားကိုထုလုပ်သောအတတ်နှင့်၊
အမျိုး မျိုးသော အလုပ် ကို၊ ထူး ဆန်း စွာ လုပ်
တတ်မည်အကြောင်း၊ ညာဏ်ပညာနှင့်တကွ၊
ထိပ်ပွဲအတတ် အမျိုးမျိုးကိုပေး၍၊ ဘုရားသခင်
၃၄ ၏ဝိညာဉ်တော်နှင့်ပြည့်စုံစေတော်မူပြီ။-သူနှင့်
ဒန်အမျိုးသား အဟိသမက်၏သားဩဟောလျာ
ဘသည်၊ သူတပါးအား အတတ် သင်ပေး နိုင်
၃၅ မည်အကြောင်း၊ ညာဏ်ကိုပေးတော်မူပြီ။-ထို
သူတို့သည်ထုလုပ်တတ်သောသူ၏အလုပ်၊ဆန်း
ပြားသော ထက် ထွား၏ အလုပ်၊ ပြာသော အ
ထည်၊ မောင်းသောအထည်၊ နီသောအထည်၊
ပိတ်ချောကိုချယ်လှယ်တတ်သောသူ၏အလုပ်၊
ရက်တတ်သောသူ၏အလုပ်၊ အနည်းနည်းလုပ်
တတ်သော သူ၏အလုပ်၊ ထူးဆန်းစွာ ကြံစည်
တတ်သောသူ၏အလုပ် အမျိုးမျိုး ရှိသမျှတို့ကို
လုပ်တတ်မည့် အကြောင်း၊ ညာဏ် ပညာ နှင့်
ပြည့်စုံစေတော်မူပြီ။

၃၆

၁ ထိုသို့ထာဝရဘုရားမှာထားတော်မူသည်အ
တိုင်း၊သန့်ရှင်းရာဌာန၌ အမှုတော်ဆောင်စရာ
ဘို့၊ အမျိုးမျိုးသော အလုပ်ကို လုပ်တတ်သော
ညာဏ်ပညာကို၊ ထာဝရဘုရားပေးသွင်းတော်
မူသောပညာရှိအပေါင်းတို့နှင့်တကွ၊ဗေဇလေ
လ၊အဟောလျာဘတို့သည် အလုပ်လုပ်ကြလိမ့်
မည်ဟု၊ဣသရေလ အမျိုးသားတို့အားဆင့်ဆို
လေ၏။
၂ ထိုဖန် မောရှေသည်၊ ဗေဇလေလ၊ အဟော
လျာဘကိုင်၊ ထာဝရဘုရား ပေးတော် မူသော
ညာဏ် သဘောကိုရ၍၊ အလုပ်လုပ်ချင်သော
စေတနာစိတ်ရှိသော ပညာရှိအပေါင်းတို့ကိုင်
၃ ခေါ်ပြီးလျှင်၊- သန့်ရှင်းရာဌာနနှင့်၊အမှုတော်
ထမ်းရန်တန်ဆာတို့ကိုလုပ်ကိုင်စေခြင်းငှါ၊ ဣ
သရေလအမျိုးသားတို့ဆောင်ခဲ့သော အလှူရှိသ
မျှကို၊ထိုသူတို့သည်မောရှေထံမှခံကြ၏။ဖြစ်၍

ညီသောမိတ်နှင့်လှူသောအလှူကို၊ နံနက်တိုင်း
၄ ထပ်၍ ဆောင်ခဲ့ကြသော၏၊- ယိုအခါသန့်ရှင်း
ရာဌာနတော်အလုပ်ကို လုပ်ကိုင်သောပညာရှိ
အပေါင်းတို့သည်၊ အသီးအသီးမိမိလုပ်ရာမှ၊-
၅ မောရှေ ထံသို့ လာ၍၊ ထာဝရ ဘုရား မှာ ထား
တော်မူသော အလုပ်ပြီးသောတ်ရုံမျှမက၊ ပို၍
၆ ဆောင်ခဲ့ကြပါပြီဟု ကြားပြောလျှင်၊- မောရှေ
ထား သန့်ရှင်းရာ ဌာနတော်အမှုလှူခြင်းငှါ၊ အ
ထယ်သောက်ျားမိန်းမှုထပ်မံ၍ မလုပ်စေနှင့်ဟု
မိရပ်၍၊ တတပ်လုံး၌ ကျော်ညာစေသဖြင့်၊ လူ
၇ များ အလှူဆောင်ခြင်းအမှုကိုဆီးတား၏၊- ရခဲ့
သောဥစ္စာသည်အလုပ်ရှိသမျှကိုပြီးစီးသောတ်
ရုံမျှမက၊ ပိုလျှံ၍ရှိသတည်း။
၈ ထန့်ရှင်းရာ ဌာန တော် အလုပ် ကို လုပ် ကိုင်
သောသူတို့တွင်၊ ပညာရှိသောလူသဉ်ပိတ်ချော၊
ပြာသောအထည်၊မောင်းသောအထည်၊ နီသော
အထည်ဖြင့် ပြီးသော ခေရုဗိမ်အရုပ်နှင့်၊ ချယ်
လှယ်သောမိတ်ချောကုလားကာဆယ်ထည်ကို
၉ လုပ် သော၏၊- ကု လား ကာ သည် အ လျား နှစ်
ဆယ်ရှစ်တောင်၊ အနံ လေးတောင်ရှိ၍၊ ကုလား
၁၀ ကာရှင်း အလျား အနံ တူ၏၊- ကုလားကာငါး
၁၁ ထည်ကိုတစပ်တည်းချုပ်သော၏၊- ကုလားကာ
ထထည်ပြင်ထက်၊ ကုလားကာနားချင်းဆက်ရှိ
ရာ၌ကွင်းများကိုပြာသောအထည်နှင့်လုပ်၍၊
အခြား သော ကုလား ကာပြင် ထက်၊ ကု လား
ကာနား ချွန်း ဆက်ရှိ ရာ၌ ထည်း ထိုအတူ လုပ်
၁၂ သော၏၊- ကုလားကာတထည်၌ ကွင်းငါးဆယ်
ကိုငှင်၊ အခြားသောကုလားကာ အနားဆက်ရှိ
ရာ၌ကွင်းငါးဆယ်ကိုငှင်လုပ်သဖြင့်၊ ကွင်းချင်း
၁၃ ဆိုင်မိကြ၏၊- ရွှေချောင်း ငါးဆယ်ကို ထည်း
လုပ်၍၊ ထိုရွှေချောင်းဖြင့်ကုလားကာများကိုပူး
တွဲသဖြင့်၊ထဲတော်တဆောင်တည်းဖြစ်သော၏၊-
၁၄ ထဲ တော် ဖုံးအုပ်ရှိ အခြား သော ကု လား ကာ
၁၅ ဆယ်တထည် ကိုဆိတ်မွေးနှင့်လုပ်သော၏၊- ကု
လားကာသည်အလျားအတောင်သုံးဆယ်၊ အ
နံလေးတောင်ရှိ၍၊ ကုလားကာဆယ်တထည်
၁၆ ထိုထည် အလျား အနံ ချင်းတူ၏၊- ကုလားကာ
ငါးထည်တစပ်၊ခြောက်ထည်တစပ်ထည်းချုပ်
၁၇ သော၏၊-ကုလားကာများဆက်ရှိရာ၌၊ပြင်ထက်
ထနေသောကုလားကာထထည်အနားမှာကွင်း
ငါးဆယ်ကိုငှင်၊ ဆက်ရှိသော အခြား ကုလား
ကာ အနားမှာ၊ ကွင်းငါးဆယ်ကိုငှင်လုပ်သော
၁၈ ၏၊- ကြေးဝါချောင်းငါးဆယ်ကိုထည်းလုပ်၍၊
အပေါ်ထဲတမိုးနှင့်တမိုးကိုပူးတွဲသဖြင့်၊ထဲ
၁၉ တဆောင်တည်းဖြစ်သော၏၊- အပေါ်ထဲဖုံးအုပ်
၌ အနီဆိုးသောသိုးရေကိုငှင်၊ထိုသိုးရေအပေါ်
၌တထောက်ရှသားရေကိုငှင်လုပ်သော၏။
၂၀ ထဲတော်ကာရန် ထောင်ထားသော အကာရှ
၂၁ ပျဉ်ပြား တို့ကို ထည်း လုပ် သော၏၊- ပျဉ်ပြား
ထည်အလျားဆယ်တောင်၊အနံ တတောင်ထွာ
၂၂ ရှိ၏၊- ထိုပျဉ်ပြားရှိသမျှတို့၌၊ခြေထောက်နှစ်
၂၃ စုမိတတန်းတည်းရှိစေခြင်းငှါလုပ်သော၏၊- ထဲ
တော်တောင်ထက်၌၊ကာရန်ပျဉ်ပြားနှစ်ဆယ်
၂၄ ကိုလုပ်၍၊-ထိုပျဉ်ပြားနှစ်ဆယ်တွင်၊တပြားထ
ပြားအောက်၌ ခြေထောက် နှစ်ခုမီ ခွပ်စရာ အို၊
၂၅ ငွေခြေ ခွပ် ထေးဆယ်ကိုလုပ်သော၏၊- ထိုအတူ
ထဲတော် မြောက်ထက်၌ ကာရန် ပျဉ်ပြားနှစ်
၂၆ ဆယ်ကိုလုပ်၍၊- ထိုပျဉ်ပြား၌ထည်း ငွေခြေ
၂၇ ခွပ်ထေးဆယ်၊ တပြားနှစ်ခုစီလုပ်သော၏၊- ထဲ
တော် အ နောက် ထက် ၌၊ ကာ ရန် ပျဉ် ပြား
၂၈ ခြောက်ပြား ကိုရပ်၊- ထောင့်တဖက် တချက်၌
၂၉ ကာရန်ပျဉ်ပြားနှစ်ပြားကိုငှင်လုပ်သော၏၊ အ
ထက်၌ငှင်၊အောက်၌ငှင်၊ကွင်းကိုတပ်၍ စပ်
၃၀ ထျက်ထောင့်နှစ်ခုပြီးသော၏၊-ပျဉ်ပြားရှစ်ပြား၊
ငွေခြေခွပ်ထယ်ခြောက်ခု၊ တပြားနှစ်ခုစီရှိသေ
၃၁ ၏၊-ထဲတော်၌ ကာရသောပျဉ်ပြားကိုလျှိုစရာ
တို့၊ အကာရှသားကန့်လန့်ကျင်တို့ကို၊ တဖက်
၃၂ ငါးချောင်းစီ လုပ်သော၏၊- ထဲတော်နောက်ဖေး
၌၊ကာရသောပျဉ်ပြားကိုလျှိုစရာအို၊ ကန့်လန့်
၃၃ ကျင်ငါးချောင်းကိုလည်းလုပ်သော၏၊-အလယ်
ကန့်လန့်ကျင်ကိုထောင့်တဖက်တချက်၌ဆုံးစေ
၃၄ ၏၊- ပျဉ်ပြားတို့ကို ရွှေနှင့် မွမ်းမံ သော၏၊ ကန့်
လန့် ကျင်လျှို ရှိရာ ရွှေကွင်း ကို ထည်း လုပ် ၍၊
ကန့်လန့်ကျင်တို့ကိုရွှေနှင့်မွမ်းမံသော၏။
၃၅ ထနည်းကား၊ပြာသောအထည်၊မောင်းသော
အထည်၊နီသောအထည်၊ ပိတ်ချောဖြင့် ပြီး၍၊
ခေရုဗိမ်အရုပ်နှင့်၊ချယ်လှယ်သောကုလားကာ
၃၆ ထထည်ကိုငှင်၊- ထိုကုလားကာအို့ရွှေချသောအ
ကာရှသားတိုင် လေးတိုင်ကိုငှင်လုပ်သော၏၊ ထို
တိုင်ထို့ထည်.ရွှေတံမှိုနှင့်ပြည့်စုံ၍၊ ငွေခြေ ခွပ်
၃၇ လေးခုကို ထည်း သွန်းသော၏၊- ထဲတော်တံခါး
ဝ၌ကာရန်၊ပြာသောအထည်၊ မောင်းသောအ
ထည်၊နီသောအထည်၊ ပိတ်ချောဖြင့်ပြီး၍ချယ်
၃၈ လှယ်သောကုလားကာတထည်ကိုငှင်၊- ထိုကု

တားကားထိုတံမှိုနှင့်ပြည့်စုံသော ဆိုင်ငါး ထိုင်
ကိုင်ရင်လုပ်၍၊ ထိုင်ထိပ်နှင့် ထိုင်တန်းတို့ကို၊ ရွှေ
နှင့်ဖွမ်းမံ လေ၏၊ ကြေးဝါခြေစွပ် ငါးခုလည်း၊
ရှိ၏။

၃၇

၁ ထိုနောက်ဗေဇလေလသည်၊ အလျားနှစ်တောင်
ထွာ၊အနံ တတောင်ထွာ၊ ခေါက်တတောင်ထွာ
ရှိသော သစ်တာကို အကာရှသားနှင့် လုပ်၍၊-
၂ သစ်တာ အတွင်းပြင်ကို ရွှေစင်နှင့်ဖွမ်းမံလေ၏၊
သစ်တာ အပေါ်နားပတ်လည်၌၊ ကွပ်သောရွှေ
၃ တန်ဆာကိုလည်းလုပ်လေ၏၊-ရွှေလေးကွင်းကို
သွန်း၍၊ သစ်တာ လေးထောင့်၌တဖက်နှစ်ခုနှစ်
၄ ကွင်းစီတပ်လေ၏၊- အကာရှသားထမ်းဆိုးကို
၅ လုပ်၍၊ရွှေနှင့်ဖွမ်းမံပြီးမှ၊- သစ်တာထမ်းစရာ
အိုး၊တဖက်တချက်ရွှေကွင်း၌လျှိုထားလေ၏၊
၆ အလျားနှစ်တောင်ထွာ၊ အနံတတောင်ထွာရှိ
သောသစ်တာအဖုံးကိုလည်း၊ရွှေစင်နှင့်လုပ်လေ
၇ ၏။- ရွှေခေရုမိမ်နှစ်ပါးကိုလည်း၊ သစ်တာအ
ဖုံးတွင်၊ အလျားတဖက် တချက်၌ ထုလုပ်လေ
၈ ၏။- ထိုသို့ခေရုမိမ်နှစ်ပါးကို၊သစ်တာဖုံးကိုယ်
ထဲကထုတ်၍၊ သစ်တာဖုံးအပေါ်၌၊ တဖက်တ
၉ ပါးစီ ထုပ်ပြီးလျှင်၊- ခေရုမိမ် နှစ်ပါးတို့သည်
ရှုတ်နှာချင်းဆိုင်၍၊ သစ်တာဖုံးကိုရှုလျက်၊မိမိ
အတောင်ကိုဖြန့်၍၊သစ်တာဖုံးကိုမိုးလျက်ရှိ၏။
၁၀ အလျား နှစ်တောင်၊ အနံ တတောင်၊ အမြင့်
အတောင်ထွာရှိသောစားပွဲကိုလည်း၊ အကာရှ
၁၁ သားနှင့်လုပ်၍၊- ရွှေစင်နှင့်ဖွမ်းမံလေ၏၊စားပွဲ
အပေါ်နားပတ်လည်၌၊ ကွပ်သော ရွှေတန်ဆာ
၁၂ ကိုင်ရင်၊-အနံတထက်ဝါးရှိသောခါးပန်းကိုင်ရင်၊
ခါးပန်း အပေါ်နား ပတ်လည် ၌ ကွပ်သော ရွှေ
၁၃ တန်ဆာကိုင်ရင် လုပ်လေ၏၊- ရွှေလေးကွင်း ကို
လည်းသွန်း၍၊ခြေထောက်လေးခုအထက်၊စား
၁၄ ပွဲလေးထောင့်၌တပ်လေ၏၊-ထိုရွှေကွင်းတို့သည်
ခါးပန်း ပေါ်မှာရှိ၍၊ စားပွဲထမ်းစရာထမ်းဆိုး
၁၅ နေရာဖြစ်၏၊- စားပွဲ ထမ်းစရာ အကာရှသား
၁၆ ထမ်းဆိုးကိုလုပ်၍၊ရွှေနှင့် ဖွမ်းမံလေ၏၊- စားပွဲ
တန်ဆာတည်းဟူသောထင်ပန်း၊ဇွန်း၊အင်တုံ၊
လောင်းစရာ ဖလားများကိုလည်း၊ ရွှေစင် နှင့်
လုပ်လေ၏။
၁၇ မီးခုံကိုလည်းရွှေစင်နှင့်လုပ်၍၊မီးခုံတိုင်အစ
ရှိသော အထက်များ၊ ခွက်များ၊ ဘူးသီးများ၊
၁၈ ကြာပွင့်များထိုကိုတစပ်အညီးထုလေ၏၊-မီးခုံ
ထိုင် ထဝထ် တဖက်ဆီ သုံးထက်စီ ထွက်၍၊ အ
၁၉ ထက်ခြောက်ထက်ရှိ၏။- မီးခုံမိုင်ထဲက ထွက်
သောအထက်သုံးထက်တွင်၊ တထက်စာထက်
၌ ဗာဒံသီးနှင့် ပုံတူသောခွက်သုံးခွက်ရှိ၏။-မီးခုံတိုင်၌လည်းဘူး
ကြာပွင့်နှင့်တကွ၊ ဗာဒံသီးနှင့်ပုံတူသောခွက်
၂၀ လေးခွက်ရှိ၏။- မီးခုံတိုင်ထဲက ထွက်သော အ
ထက်ခြောက်ထက် ရှိသည်အတိုင်း၊ အထက်
နှစ်ခက် အောက်၌ တည်း၊ ဘူးသီး တလုံးစီ ရှိ
၂၂ ၏။- ဘူးများ၊အထက်များတို့ကို၊ တကိုယ်တ
စပ်တည်းဖြစ်စေ၍၊ မီးခုံတကိုယ်လုံးကိုရွှေစင်
၂၃ နှင့် ထုလုပ်လေ၏၊- မီးခွက်ခုနစ်လုံး၊ မီးညှပ်
နှင့်မီးညှပ်ခံစရာခွက်များကိုလည်း၊ ရွှေစင်နှင့်
၂၄ လုပ် လေ၏။- မီးခုံနှင့် မီးခုံတန်ဆာ ရှိသမျှတို့
ကို၊ရွှေစင်အခွက်တဆယ်နှင့်လုပ်သတည်း။
၂၅ တနည်းကား၊ နံ့သာပေါင်းကိုမီးရှို့ရာယဇ်
ပလ္လင်ကိုအကာရှသားနှင့်လုပ်လေ၏၊ထိုပလ္လင်
သည် အလျားတတောင်၊ အနံတတောင်၊ စတု
ရန်းလေးထောင့်ဖြစ်၍၊အမြင့်နှစ်တောင်ရှိလေ
၏၊ ဦးချိုတို့ကိုလည်း အကာရှသားဖြင့်ပြီးစေ
၂၆ ၏။- ပလ္လင်ထိပ်၊နံရံ၊ဦးချိုတို့ကိုရွှေစင်နှင့်ဖွမ်း
မံ၍၊ အပေါ်နားပတ်လည်၌ ကွပ်သော ရွှေတန်
၂၇ ဆာကိုလုပ်လေ၏။-ရွှေတန်ဆာအောက်၊ပလ္လင်
တဖက် တချက်ထောင့်၌ ရွှေကွင်း နှစ်ကွင်းကို
လုပ်၍၊ပလ္လင်ထမ်းစရာထမ်းဆိုးနေရာဖြစ်၏။-
၂၈ ထမ်းဆိုးတို့ကိုအကာရှသားနှင့်လုပ်၍၊ ရွှေနှင့်
၂၉ ဖွမ်းမံ လေ၏။- ဆေးသမား အတတ်နှင့် ဆေး
ပေါင်းကို ဖော် တတ်သည် အတိုင်း၊ သန့်ရှင်း
သောလိမ်းရန် နံ့သာ ဆီကိုရင်၊ နံ့သာ မျိုးနှင့်
ဖော်သော မီးရှို့ရာ နံ့သာ ပေါင်း စင်ကိုရင်လုပ်
လေ၏။

၃၈

၁ တနည်းကား၊ အလျား ငါးတောင်၊ အနံ ငါး
တောင်ရှိ၍၊စတုရန်းလေးထောင့် ဖြစ်သော၊မီး
ရှို့ရာယဇ်ပလ္လင်ကိုအကာရှသားနှင့် လုပ်လေ
၂ ၏၊အမြင့်လည်းသုံးတောင်ရှိ၏။- ထိုယဇ်ပလ္လင်
လေးထောင့် အပေါ်မှာ၊ ဦးချို လေးချောင်းကို
အကာရှသားနှင့်လုပ်၍၊ကြေးဝါနှင့်ဖွမ်းမံလေ
၃ ၏။- အိုးနှင့် တကွ ထူး ရွှင်းပြား၊ အင်တုံ၊ အခဲ
ထားမြိတ်၊ ထင်ပန်း အစရှိသော၊ ယဇ်ပလ္လင်
နှင့်ဆိုင်သော တန်ဆာ ရှိသမျှ တို့ကို၊ ကြေးဝါ
၄ နှင့်လုပ်လေ၏။-ကြေးဝါဆန်ခါကိုလုပ်၍၊ယဇ်

ဝဏ္ဏွင် ခါးပန်းအောက်၊ အလယ်၌ ထား၍၊–
၅ ထမ်းဆိုးထားရာ ဆန်ခါလေးထောင့်၌၊ တပ်ရ
၆ သော ကြေးဝါလေးကွင်းကို သွန်းလေ၏။– အ
ကာရှသားထမ်းဆိုးတို့ကို လုပ်၍၊ ကြေးဝါနှင့်
၇ စွပ်းစုံပြီးမှ၊– ယဇ်ပလ္လင်ကို ထမ်းစေရာတို့ တ
စင်တချက်ကွင်းများ၌လျှိုထား၏။ ထိုယဇ်
ပလ္လင်ကို အပေါ်အောက်ထင်းထင်းဖြစ်စေခြင်း
၈ ငှါ၊ ဖျည်ပြားနှင့်လုပ်လေ၏။– ပရိသတ်စည်း
ဝေးရာ ထဲတော်တံခါးရှေ့မှာ၊ စည်းဝေးတတ်
သောမိန်းမတို့၏ကြေးဝါမှန်များကိုယူ၍၊ ကြေးဝါ
အင်တုံနှင့်ကြေးဝါခြေထောက်ကိုလုပ်လေ၏။
၉ ထဲ တော် ဝင်း ကာ ရန် မူ ကား၊ အ လျား အ
တောင်တရာရှိသောပိတ်ချောနှင့်၊တောင်ထက်
၁၀ ၌ ကုလားကာကိုလုပ်လေ၏။– ထိုကုလားကာ
ရှိတိုင်နှစ်ဆယ်၊တိုင်ခြေစွပ်နှစ်ဆယ်ကို၊ကြေး
ဝါနှင့်လုပ်၍၊တိုင်တံမြို၊တိုင်တန်းတို့ကိုငွေဖြင့်
ပြီးစေ၏။– ထိုနည်းတူ မြောက်ထက်၌ကာရန်၊
အလျားအတောင်တရာရှိသော ကုလားကာနှင့်
တကွ၊ ငွေတံမြို၊ ငွေတန်းပါသော ကြေးဝါတိုင်
၁၂ နှစ်ဆယ်၊ ကြေးဝါခြေစွပ် နှစ်ဆယ်ရှိ၏။– အ
နောက်ထက်၌ကာရန်၊ အလျားအတောင် ငါး
ဆယ် ရှိသော ကုလားကာ နှင့် တကွ၊ တိုင် တ
၁၃ ဆယ်၊ ခြေစွပ် တဆယ် ရှိ၏။– အရှေ့ ထက် ၌
၁၄ ထည်းအတောင်ငါးဆယ်ရှိ၏။–တံခါးဝတဖက်
၁၅ တချက်၌ ကာရန်၊ အလျား ဆယ်ငါးတောင် ရှိ
သော ကုလားကာနှင့်တကွ တိုင်သုံးတိုင်၊ ခြေ
၁၆ စွပ်သုံးခုရှိ၏။– ဝင်းပတ်လည်၌ ကာသော ကု
လားကာ ရှိသမျှတို့သည်၊ ပိတ်ချောဖြင့်ပြီး၏။–
၁၇ တိုင်တို့သည်ကြေးဝါခြေစွပ်၊ ငွေတံမြို၊ငွေတန်း
နှင့် ပြည့်စုံ၍၊ တိုင်ထိပ် များကိုလည်း ငွေနှင့်
စွပ်းပံလေ၏။ ဝင်းတိုင်တန်းရှိသမျှတို့သည်ငွေ
၁၈ တန်းဖြစ်၏။– ဝင်းတံခါးဝ၌ကာရန်၊ ပြာသော
အထည်၊မောင်းသောအထည်၊နီသောအထည်၊
ပိတ်ချောဖြင့်ပြီး၍ချယ်လှယ်သောကုလားကာ၊
အလျားအတောင်နှစ်ဆယ်၊ အမြင့်ငါးတောင်ရှိ
၍၊ ဝင်းကာသောကုလားကာနှင့် တညီတည်း
၁၉ ဖြစ်၏။– ဝင်းတံခါးဝတိုင်လေးခုရှိ၍၊ကြေးဝါ
ခြေစွပ် လေးခု၊ ငွေတံမြို၊ ငွေတန်းများ၊ ငွေနှင့်
၂၀ စွပ်းမံသောထိပ်များနှင့်ပြည့်စုံကြ၏။–ထဲတော်
တံသင် ဝင်းပတ်လည်၌ စိုက်သော တံသင်ရှိသ
မျှတို့လည်းကြေးဝါတံသင်ဖြစ်ကြ၏။
၂၁ သက်သေခံရာ ထဲတော်ကိုဆိုင်သောစာရင်းဟူမူ၊
ယဇ်ပုရောဟိတ်အာရုန်၏သား ဣသမာသည်၊ လေ
ဝိလူများ အမှုတော်ဆောင်စေရာထဲတော်ကို၊ ရေ
တွက်မှတ်သားသော သက်သေခံရှက် ထဲတော်
၂၂ စာရင်းပေတည်း။–မောရှေအားထာဝရဘုရား
မှာထားတော်မူသမျှတို့ကို၊ ယုဒအမျိုးသားဟုရ
၏သားဖြစ်သော၊ ဥရိ၏သားဗေဇလေလသည်
၂၃ လုပ်လေ၏။– ထိုမှတပါး၊ထုလုပ်တတ်သောသူ
၏အလုပ်၊ ဆန်းပြားသော ထက်သမားအလုပ်၊
ပြာသောအထည်၊မောင်းသောအထည်၊နီသော
အထည်၊ ပိတ်ချောကို ချယ်လှယ်တတ်သောသူ
၏အလုပ်ကို၊ လုပ်တတ်သောဒန်အမျိုးသားအ
ဟိသမက်၏သား၊ အဟောလျဗ်သည်းရှိ၏။–
၂၄ သန့်ရှင်းရာ ဌာန တော် ပြီးအောင် လုပ်၍၊ လှုပ်
သောရွှေမှန်ပေါင်းကား၊အကျပ်တော်အတိုင်း၊
အခွက်နှစ်ရာ ကိုးဆယ် ရှနှစ် ပိဿာ သုံးဆယ်
၂၅ ဖြစ်သတည်း။–စာရင်းဝင်သောပရိသတ်များ
ပေးသောငွေမှန်ပေါင်းကား၊ အကျပ်တော်အ
တိုင်း၊အခွက်တထောင်နှင့်တဆယ်ရှနှစ်ပိဿာ
၂၆ ရှနှစ်ဆယ်ငါးကျပ်ဖြစ်သတည်း။–အသက်နှစ်
ဆယ် မှစ၍၊ ပိုလွန် သမျှ သော သူ စာရင်းဝင်
သည်အတိုင်း၊ လူခြောက်သိန်း သုံးထောင်ငါး
ရာငါးဆယ်တို့သည်၊အကျပ်တော်အလိုက်ငွေ
၂၇ မှန်အကျပ်တဝက်စီပေးရကြ၏။– ခြေစွပ်တရ
၌ငွေအခွက် တဆယ်စီဝင်သည်ဖြစ်၍၊ ငွေအ
ခွက်တထောင်နှင့်ထဲတော်ခြေစွပ်၊ အတွင်းကု
လားကာခြေစွပ်တည်းဟူသော၊ ခြေစွပ်အရာ
၂၈ ကိုသွန်းလေ၏။– ကျန်သောငွေအခွက်တဆယ်
ရှနှစ်ပိဿာ ရှနှစ်ဆယ်ငါးကျပ်နှင့်၊ တိုင်တံမြို
နှင့်တိုင်တန်းတို့ကိုလုပ်၍၊တိုင်ထိပ်များကိုစွပ်း
၂၉ မံလေ၏။–လှူသောကြေးဝါပေါင်းကားအခွက်
ရှနှစ်ရာနှစ်ဆယ်နှင့်လေးပိဿာဖြစ်သတည်း။–
၃၀ ထိုကြေးဝါနှင့် ပရိသတ်စည်းဝေးရာထဲတော်
တံခါးဝခြေစွပ်၊ ကြေးဝါ ယဇ်ပလ္လင်၊ ကြေးဝါ
ဆန်ခါ၊ ယဇ်ပလ္လင် တန်ဆာ ရှိသမျှကို၎င်း၊–
၃၁ ကာသောဝင်းခြေစွပ်၊ ဝင်းတံခါးဝခြေစွပ်၊ ထဲ
တော် တံသင်၊ ဝင်း ပတ်လည်၌ စိုက်သော တံ
သင်ရှိသမျှကို၎င်းလုပ်လေ၏။

၃၉

၁ သန့်ရှင်းရာဌာန၌ အမှုတော်ကိုဆောင်သော
အခါ၊ ဝတ်ရသောအဝတ်ကို၎င်း၊အာရုန်ဝတ်ရှိ
သန့်ရှင်းသော အဝတ်ကို ၎င်း၊ ထာဝရ ဘုရား
သည်မောရှေအားမှာထားတော်မူသည်အတိုင်း။

ပြာသောအထည်၊ မောင်းသော အထည်၊ နီ
၂ သော အထည်နှင့် ထုပ်ထော်၏။- ပြာသော အ
ထည်၊ မောင်းသောအထည်၊ နီသောအထည်၊
ပိတ်ချောနှင့်ထင်ပရောဟိတ်ထင်တိုင်းကိုလုပ်
၃ ရာတွင်၊- ရွှေကိုအပြားခတ်၍၊ရွှေကြိုးကိုညှိုးပြီး
မှ၊ ပြာသောအထည်၊ မောင်းသောအထည်၊ နီ
သောအထည်၊ ပိတ်ချောတို့ကိုထူးဆန်းစွာ အ
၄ ပြောက်ထိုးထော်၏။-သိုင်းကြိုးနှစ်ပင်ကိုလုပ်၍၊
သင်တိုင်းအပေါ်နားခြင်း တွဲမိစေခြင်းငှါ၊ ထ
၅ စက်တချက်ကိုဆွဲချုပ်ထော်၏။- ထာဝရဘုရား
သည်၊ မောရှေအား မှာထားတော် မူသည် အ
တိုင်း၊၊သင်တိုင်းအပေါ်နား၌၊ထူးဆန်းသောရင်
စည်းကိုလည်း၊သင်တိုင်းကိုယ်ကဲ့သို့ရွှေနှင့်၎င်း၊
ပြာသောအထည်၊မောင်းသောအထည်၊နီသော
၆ အထည်၊ပိတ်ချောတို့နှင့်၎င်းလုပ်ထော်၏။- ရှဟံ
ကျောက် နှစ်လုံးကို သွေး၍၊ တံဆိပ် ပေါ်မှာ
အက္ခရာတင်သကဲ့သို့ဣသရေလအမျိုး၏နာမည်
တို့ကိုအက္ခရာတင်ပြီးမှ၊ရွှေကျောက်ဖိုး၌ထည့်
၇ ထော်၏။- ထာဝရဘုရားသည် မောရှေအားမှာ
ထားတော် မူသည်အတိုင်း၊၊ ဣသရေလ အမျိုး
သားတို့ကိုအောင်မေ့ဖို့ရာ၊ထိုကျောက်နှစ်လုံး
ကို သင်တိုင်းသိုင်းကြိုး အပေါ်မှာ တပ်ထော်၏။
၈ ရွှေနှင့်၎င်း၊ ပြာသောအထည်၊ မောင်းသော
အထည်၊နီသောအထည်၊ ပိတ်ချောနှင့်၎င်း၊သင်
တိုင်းကိုလုပ်သည်နည်းတူ၊ ရင်ဖုံးကိုထူးဆန်း
၉ စွာလုပ်ထော်၏။-ရင်ဖုံးနှစ်ထပ်ခေါက်လျက်၊အ
လျားတထွာ၊အနံ တထွာ၊ စတုရန်းလေးထောင့်
၁၀ ဖြစ်၏။- ထိုရင်ဖုံး၌ကျောက်မြတ်ကိုလေးတန်း
စီထော်၏။ပဌမအတန်းကား၊ကျောက်နီ၊ ဥသ
၁၁ ဘရာ၊၊ ပဏ္ဍမြား၊- ဒုတိယအတန်းကား၊မြ၊ နီ
၁၂ လာ၊မိန်၊- တတိယ အတန်းကား၊ ဂေါ်ကိဿု၊
၁၃ မဟူရာ၊ဂေါမိတ်၊- စတုတ္ထအတန်းကား၊ မျက်
ရွဲ၊ကြောင်၊ နဂါးသွဲ့ဖြစ်၍၊ အသီးအသီးတို့ကို
၁၄ ရွှေဖိုး၌စီထော်၏။-ဣသရေလအမျိုးတဆယ်နှစ်
မျိုး၊ရှိသည်အတိုင်းတံဆိပ်ပေါ်မှာအက္ခရာတင်
သကဲ့သို့၊ ထိုကျောက်တို့၌ ထိုတဆယ် နှစ်ပါး
သော နာ မည် အ သီး အသီး တို့ ကို တင်လျက်
ကျောက် တ လုံး လျှင်၊ နာ မည် တ ပါး စီ ပါ
၁၅-၁၈ ၏။-ရင်ဖုံးအပေါ်ထောင့်နှစ်ခု၌၊ရွှေနှစ်ကွင်း
ကို၎င်း၊ ရွှေ ကျောက်ဖိုး နှစ်လုံးကို ၎င်း၊ ကျစ်
သောရွှေကြိုးနှစ်ပင်ကို၎င်းလုပ်ပြီးမှ၊ ထိုရွှေကွင်း
၌တစ်၍၊ သင်တိုင်းသိုင်းကြိုးအပေါ်မှာရှိသော
၁၉ ကျောက်ဖိုးတို့၌တွဲထော်၏၊-တဖန်ရွှေနှစ်ကွင်း
ကိုလုပ်၍၊သင်တိုင်းအောက်နားမှာရှိသော၊ရင်
၂၀ ဖုံးအောက်ထောင့်နှစ်ခု၌ တပ်ထော်၏။- အခြား
သောရွှေနှစ်ကွင်းကိုလည်းလုပ်၍၊သင်တိုင်းအ
ရှေ့ထက် အောက်နားနှင့်၊ ထူးဆန်းသော ရင်
စည်းအပေါ်နားဆက်မိရာတွင်၊သင်တိုင်းကိုတ
၂၁ စက် တချက်၌ တပ် ထော်၏။- ရင်ဖုံး ရွှေနှစ်ကွင်း
ကို၊ သင်တိုင်း ရွှေနှစ်ကွင်း နှင့်တွဲ၍၊ ပြာသော
ကြိုးဖြင့် ငြိစေ၏၊ ထိုသို့ထာဝရ ဘုရား သည်၊
မောရှေအားမှာထားတော်မူသည်အတိုင်း၊ရင်
ဖုံးသည်ထူးဆန်းသောရင်စည်းအပေါ်မှာဆွဲ၍၊
သင်တိုင်းနှင့်မကွာဘဲအမြဲနေထော်၏။
၂၂ ထိုမှတပါး၊ ပြာသောအထည်ကို ရက်ပြီးမှ၊
သင်တိုင်းနှင့် ဆိုင်သော ဝတ်လုံကို၊ ထိုအထည်
၂၃ နှင့်သာလုပ်ထော်၏။- ဝတ်လုံ၌ ထည်စွပ်ပါ၍၊
ထည်စွပ်ကို မစုတ်စေခြင်းငှါ၊ သံချပ်ထည် စွပ်
၂၄ ကွပ်သကဲ့သို့ ကွပ်ထော်၏။- ပြာသော အထည်၊
မောင်းသောအထည်၊နီသောအထည်၊ပိတ်ချော
၂၅ နှင့်လုပ်သောသလဲသီးများကို၎င်း၊-ရွှေစင်ဆည်း
လည်းများကို၎င်း၊ဝတ်လုံအောက်စွန်းနားပတ်
၂၆ လည်၌၊-သလဲသီးတလုံး၊၊ ဆည်းလည်းတလုံး
စီခြားလျက်၊ အစည် အတိုင်း ဆွဲထားသဖြင့်၊
ထာဝရဘုရားသည်မောရှေအားမှာထားတော်
မူသည် အတိုင်း၊၊ အမှုတော်ကို ဆောင်ရသော
ဝတ်လုံကိုလုပ်၍ပြီးသော်၏။
၂၇ တဖန် ထာဝရဘုရားသည်၊ မောရှေအားမှာ
ထား တော် မူသည် အတိုင်း၊၊ အာရုန်နှင့် သူ၏
သားတို့အဖို့ ရက်သောပိတ်ချောအင်္ကျီ များကို
၂၈ ၎င်း၊- ပိတ်ချော ပေါင်းကို၎င်း၊ တင့်တယ်သော
ပိတ်ချောဦးထုပ်များကို၎င်း၊ ပိတ်ချောပေါင်းဘီ
၂၉ များကို၎င်း၊-ချယ်လှယ်သောပိတ်ချော၊အထည်
ပြာ၊အထည်မောင်း၊အထည်နီဖြင့်ပြီးသောခါး
၃၀ ပန်းကို၎င်း လုပ်ထော်၏။- မောရှေအား ထာဝရ
ဘုရား မှာထားတော်မူသည်အတိုင်း၊၊ သန့်ရှင်း
သော သင်းကျပ်ပြားကိုလည်းရွှေစင်နှင့်လုပ်၍၊
တံဆိပ်ပေါ်မှာအက္ခရာတင်သကဲ့သို့၊ ထာဝရ
ဘုရားအား သန့်ရှင်းခြင်းဟူ အက္ခရာ တင်၍၊-
၃၁ ပြာသောကြိုးနှင့်ပေါင်းအပေါ်နားမှာချည်ထား
ထော်၏။
၃၂ ထိုသို့ မောရှေ အား ထာဝရ ဘုရား မှာ ထား
တော်မူသည်အတိုင်း၊၊ ဣသရေလ အမျိုးသား
တို့သည်ပြု၍၊ ပရိသတ်စည်းဝေးရာ ထဲတော်

၃၃ အလုပ်မှုသမျှကိုပြီးစီးကြ၏။- ထိုအခါရှုသရေ
ထအရှိုးသော၊ထိုသည်၊ထဲတော်နှင့်အပေါ်ထဲမှ
စ၍၊ ချွတ်ချောင်း၊ပျဉ်ပြား၊ ကန့်လန့်ကျင်၊ တိုင်၊
မြေခွက်တည်းဟူသောထဲတော်တန်ဆာမှုသမျှ
၃၄ ကိုင်၎င်း၊- အနီဆိုးသော သိုးရေအမိုး၊ တထာရှူး
သားရေ အမိုး၊ ကွယ်ကာရာ အတွင်းကုလား
၃၅ ကာကိုင်၎င်း၊- သက်သေခံချက်သေတ္တာနှင့်သူ၏
၃၆ ထမ်းဆိုး၊ သူ၏အဖုံးကိုင်၎င်း၊- စားပွဲမှစ၍စားပွဲ
၃၇ တန်ဆာ နှင့် ရှေ့တော် မုန့်ကို၎င်း၊- စင်ကြယ်
သောမီးခုံမှစ၍၊ ထွန်းညှိရသောမီးခွက်များ၊မီး
ခုံတန်ဆာမှုသမျှနှင့်၊ မီးထွန်းစရာ ဆီကို၎င်း၊-
၃၈ ရွှေယဇ် ပလ္လင်၊ လိမ်းရန်ဆီ၊ မီးမွှေးရာ နံ့သာ
ပေါင်းမွှေး၊ ထဲတော်တံခါးဝကာစရာ ကုလား
၃၉ ကာကို၎င်း၊-ကြေးဝါယဇ်ပလ္လင်၊ကြေးဝါဆန်
ခါ၊ ပလ္လင်ထမ်းဆိုး၊အစရှိသောတန်ဆာမှုသမျှ
၄၀ ကို၎င်း၊အင်တုံနှင့်သူ၏ခြေထောက်ကို၎င်း၊-ဝင်း
ထုလားကာ၊ဝင်းတိုင်၊မြေခွက်၊ဝင်းတံခါးဝကာ
စရာ ကုလားကာကြိုးများ၊ တံသင် များကို၎င်း၊
ထဲတော်အတွင်း၌အမှုတော်ကိုဆောင်စရာတန်
ဆာ၊ပရိသတ်စည်းဝေးရာ ထဲတော်တန်ဆာမှု
၄၁ သမျှကို၎င်း၊- သန့်ရှင်းရာဌာန၌၊အမှုတော်ကို
ဆောင်သောအခါဝတ်ရသောအဝတ်၊ ယဇ်ပ
ရောဟိတ် အမှုကို ဆောင်သော အခါ၊ ယဇ်ပ
ရောဟိတ်အာရုန်ဝတ်မှုသန့်ရှင်းသောအဝတ်၊
၄၂ သူ၏သားဝတ်ရသောအဝတ်ကို၎င်း၊- ထာဝရ
ဘုရားသည်မောရှေအား မှာထားတော်မူသည်
အတိုင်း၊ ပြီးစီးဆောင်ထုပ်ပြီးမှ၊ မောရှေထံသို့
၄၃ ဆောင်ခဲ့ကြ၏။- ထာဝရဘုရားမှာထားတော်မူ
သည်အတိုင်း၊ အလုပ်မှုသမျှကို ပြီးစီးစေခြင်း
ရှိ၊လုပ်ကြောင်းကို မောရှေသိမြင်သောအခါ၊
သူတို့ကိုကောင်းကြီးပေးလေ၏။

၄၀

၁ ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော်မူသည်ကား၊-ထင်သည်ပဌမလ၊ပဌမနေ့
၌၊ပရိသတ်စည်းဝေးရာထဲတော်ကိုဆောက်ရ
၃ မည်။- တဲတော်အထဲ၌၊ သက်သေခံချက် သေ
တ္တာကို သွင်းထား၍၊ အတွင်း ကုလားကာ ဖြင့်
၄ ကွယ်ကာရမည်။-စားပွဲကိုထည့်သွင်း၍၊ စား
ပွဲပေါ်မှာ ပွင့်ဆင်ရသမျှတို့ကို ပွင့်ဆင်ရမည်။
မီးခုံကိုထည့်သွင်း၍၊ မီးခွက်တို့ကို ထွန်းရ
၅ မည်။- နံ့သာ ပေါင်း မွှေးရာ ရွှေပလ္လင်ကို၊ သက်
သေခံချက်[illegible]ထား၍၊ထဲတော်
တံခါးဝကာသောကုလားကာကိုဆွဲကာရမည်။-
၆ ယဇ်ကောင်မီးရှို့ရာ ပလ္လင်ကိုထည့်။ ပရိသတ်
စည်းဝေးရာ ထဲတော် တံခါးရှေ့၌ တည်ထားရ
၇ မည်။- အင်တုံကိုထည့်၊ပရိသတ်စည်းဝေးရာ
ထဲတော်နှင့်၊ယဇ်ပလ္လင်စပ်ကြားမှာတည်ထား
၈ ၍၊ အင်တုံ၌ရေကိုထည့်ရမည်။- ထဲတော်ပတ်
လည် ဝင်းကိုထူ၍၊ ဝင်းတံခါးဝကာသော ကု
၉ လားကာကို ဆွဲကာရမည်။- လိမ်းရန်ဆီကို ယူ
၍၊ ထဲတော်နှင့်ထဲတော်၌ရှိသမျှတို့ကိုလိမ်းသ
ဖြင့်၊ ထဲတော်နှင့်ထဲတော်တန်ဆာမှုသမျှတို့ကို
သန့်ရှင်းစေရမည်။ထိုသို့ထဲတော်သည်သန့်ရှင်း
၁၀ ရလိမ့်မည်။- ယဇ်ကောင်မီးရှို့ရာပလ္လင်နှင့်၊တန်
ဆာ မှုသမျှတို့ကိုလိမ်း၍၊ သန့်ရှင်းစေ သဖြင့်၊
ထိုပလ္လင် သည် အလွန် သန့်ရှင်း သော ပလ္လင်
၁၁ ဖြစ်ရမည်။- အင်တုံနှင့် ခြေထောက်ကိုလည်း
၁၂ လိမ်း၍၊ သန့်ရှင်းစေရမည်။- အာရုန်နှင့် သူ၏
သားတို့ကို၊ ပရိသတ်စည်းဝေးရာတံခါးနားသို့
၁၃ ခေါ်ခဲ့၍ရေချိုးရမည်။- အာရုန်သည် ငါ့ရှေ့၌၊
ယဇ် ပရောဟိတ် အမှုကို ဆောင် ရွက် မည်အ
ကြောင်း၊ သန့်ရှင်းသော အဝတ်နှင့်ဝတ်စေ၍၊
၁၄ ဆီလိမ်းသဖြင့် သန့်ရှင်း စေရမည်။- သူ၏သား
တို့ သည် လည်း၊ ငါ့ရှေ့၌ ယဇ် ပရော ဟိတ် အ
မှုကိုဆောင် ရွက်မည်အကြောင်း၊ သူတို့ကိုခေါ်
ခဲ့၍၊ အင်္ကျီဝတ်စေလျက်၊ သူတို့အဘကိုဆီလိမ်း
၁၅ သကဲ့သို့၊ သူတို့ကိုဆီလိမ်းရမည်။-အကယ်စင်
စစ်သူတို့ဆီလိမ်းခြင်းအိုက်သည်၊သားစဉ်
မြေးဆက်ပတ်လုံး ထာဝရယဇ်ပရောဟိတ်အ
၁၆ ရာဖြစ်သတည်းဟု၊- ထာဝရဘုရားမိန့်တော်မူ
သမျှအတိုင်းမောရှေပြုလေ၏။
၁၇ သက္ကရာဇ်နှစ်ရှ၊ ပဌမလ၊ ပဌမနေ့၌ မောရှေ
၁၈ သည် ထဲ တော် ကို ဆောက် လေ ၏။- ထာဝရ
ဘုရားမှာထားတော်မူသည့်အတိုင်း၊မြေခွက်များ
ကိုနေရာချ၍၊ ပျဉ်ပြားများကို ထောင်ပြီးလျှင်၊
ကန့်လန့် ကျင် များ ကိုလျှို၍၊ တိုင် တို့ကို ထူလေ
၁၉ ၏။-တဲတော်အပေါ်မှာထဲကိုဖြန့်မိုး၍၊ ထိုထဲအ
၂၀ ပေါ်မှာသည်အထပ်ထပ်မိုးပြန်လေ၏။-ထာဝ
ရဘုရား မှာထားတော် မူသည်အတိုင်း၊ သက်
သေခံချက်ကိုသေတ္တာထဲမှာသွင်းထား၍၊ သေ
တ္တာ ကွင်း တို့ ၌ ထမ်း ဆိုး ကို လျှို ၍၊ သေတ္တာ
၂၁ ပေါ်အဖုံးကိုတင်ပြီးမှ၊- သေတ္တာကိုထဲတော်၌
သွင်း၍၊ ကွယ်ကာရာ အတွင်း ကုလားကာကို
ကာထား သဖြင့်၊ သက်သေခံချက် [illegible] ကို

၂၂ တွယ်ကာထေ၏၊- ထာဝရဘုရားမှာထားတော်
မူသည်အတိုင်း၊ စားပွဲကိုလည်းပရိသတ်စည်း
ဝေးရာ တဲတော် အတွင်း၊ မြောက်ထက် နားကု
၂၃ ထားကာပြင်မှာထား၍၊- စားပွဲပေါ်မှာထာဝရ
၂၄ ဘုရားရှေ့တော်၌မုန့်ကိုပွင်ဆင်ထေ၏၊- ထာဝ
ရဘုရား မှာထားတော် မူသည်အတိုင်း၊ မီးခုံကို
လည်းပရိသတ်စည်းဝေးရာတဲတော်အတွင်း၊
၂၅ တောင်ထက်နားစားပွဲဆိုင်ရာတွင်ထား၍၊-ထာ
ဝရ ဘုရား ရှေ့တော်၌ မီးခွက်များကို ထွန်းထေ
၂၆ ၏၊-ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊
ရွှေပလ္လင်ကိုလည်း ပရိသတ် စည်းဝေးရာတဲ
၂၇ တော်အတွင်း၊ကုလားကာပြင်မှာထား၍၊- ထို
ပလ္လင်ပေါ်၌ မွှေးသောနံ့သာပေါင်းကိုမီးရှို့ထေ
၂၈ ၏၊- တဲတော်တံခါးဝ၌လည်း၊ ကုလားကာကို
၂၉ ဆွဲကာလေ၏၊- ထာဝရဘုရား မှာထားတော်မူ
သည်အတိုင်း၊ မီးရှို့ရာ ယဇ်ပလ္လင်ကိုလည်း၊
ပရိသတ် စည်းဝေးရာ တဲတော်တံခါး ရှေ့မှာ
ကာ၍၊ ထိုပလ္လင်ပေါ်၌ မီးရှို့ရာ ယဇ်ကို၎င်း၊
ဘောဇဉ်ပူဇော်သကာကို၎င် ပူဇော်လေ၏၊-
၃၀ အင်တုံကိုလည်း ပရိသတ် စည်းဝေးရာတဲနှင့်
ယဇ်ပလ္လင်စပ်ကြားမှာထား၍၊ ဆေးစရာရေကို
၃၁ အင်တုံ၌ထည့်ထေ၏၊- ထာဝရဘုရားမှာထား
တော်မူသည်အတိုင်း၊မောရှေနှင့်အာရုန်-စ၍၊
သူ၏ သားတို့သည် ပရိသတ်စည်းဝေးရာ တဲ
၃၂ တော်အထဲသို့ဝင်သော်၎င်း၊- ယဇ်ပလ္လင်အနီး
သို့ ချဉ်းကပ်သော်၎င်း၊ ထိုထက်ခြေတို့ကိုဆေးရ
၃၃ ကြ၏၊- တဲတော်နှင့် ယဇ်ပလ္လင်ပတ်လည်ဝင်း
ကိုဖို၍၊ ဝင်းတံခါးဝ၌ ကာသော ကုလားကာ
ကိုဆွဲထေ၏၊ ထိုသို့မောရှေသည် အလုပ်ကိုပြီး
စီးစေသတည်း။
၃၄ ထိုအခါ မိုဃ်းတိမ်သည်၊ ပရိသတ် စည်း
ဝေးရာတဲတော်ကိုလွှမ်းမိုး၍၊ ထာဝရဘုရား၏
ဘုန်းတော်သည်တဲတော်ကိုဖြည့်ထေ၏၊-ထိုသို့
မိုဃ်း တိမ်သည်၊ ပရိသတ် စည်းဝေးရာတဲ
တော်အပေါ်၌ နေသောကြောင့်၊ မောရှေသည်
အထဲသို့ မဝင်ရ၊ ထာဝရ ဘုရား၏ ဘုန်းတော်
၃၅ သည်၊ တဲတော်ကိုဖြည့်လျက်နေ၏၊- ဣသရေ
လအမျိုးသားတို့သည် ခရီးသွားလေရာရာတွင်၊
မိုဃ်းတိမ်သည်၊ တဲတော်အပေါ်မှကွာခြောထ်
၃၆ သောအခါ၊ခရီးသွားကြ၏၊-မိုဃ်းတိမ်မကွာမ
ခြောက်လျှင်၊မကွာမခြောက်မှီနေ့တိုင်အောင်၊
၃၇ ခရီးမသွားဘဲ နေကြ၏၊- ခရီးသွား လေရာရာ
၃၈ တွင်၊ ဣသရေလ အမျိုးသား အပေါင်းတို့ ရှေ့
မျှောက်၌၊ ထာဝရဘုရား၏မိုဃ်းတိမ်သည်နေ့
အခါ တဲတော်အပေါ်မှာ တည်နေ၏၊ ညည့်အ
ခါ မီးလျှံဖြစ်လျက်၊တည်နေလေသတည်း။

ရှင်မောရှေစီရင်ရေးထားသောထွက်မြောက်ရာကျမ်းပြီး၏၊

---

# ဝတ်ပြုရာကျမ်း။

## LEVITICUS

၁

၁ ထာဝရဘုရားသည် ပရိသတ် စည်းဝေးရာ
တဲတော် ထဲက၊ အသံကို လွှင့်လျက် မောရှေကို
ခေါ်တော် မူ၍၊- သင် သည် ဣသရေလ အမျိုး
သားတို့ကိုဆင့်ဆိုရမည်မှာ၊ သင်တို့တွင်တစုံတ
ယောက်သော သူသည်၊ ထာဝရ ဘုရားအားပူ
ဇော်သကာကိုပြုလိုလျှင်၊တည်သောတိရိစ္ဆာန်
တည်းဟူသော၊နွားဖြစ်၊ သိုး၊ ဆိတ်ကိုဆောင်ခဲ့၍
ဆက်ရမည်၊
၃ နွားကိုမီးရှို့ရာ ယဇ်ပြုလိုလျှင်၊ အပြစ် ပေါ
သောအထီးကို ဆောင်ခဲ့၍၊ ထာဝရဘုရားမိတ်
တော်နှင့်တွေ့မြင်း၍၊ ပရိသတ်စည်းဝေးရာတဲ
၄ တော် တံခါး အနားမှာ ဆက် ရမည်၊- ပူဇော်
သောနွား၏ခေါင်းပေါ်မှာမိမိလက်ကိုတင်ရအ
ဖြင့်၊သူ၏အပြစ်ကိုဖြေမည်အကြောင်း၊ ထက်ခံ
၅ တော်မူမည်၊- ထာဝရဘုရားရှေ့တော်၌ ထိုနွား
ကိုသတ်ပြီးလျှင်၊ အာရုန်၏သား၊ ယဇ်ပရော
ဟိတ်တို့သည်အသွေးကိုယူ၍၊ပရိသတ်စည်း

ဝေးရာထဲတော် တံခါးအနား၊ ယဇ်ပလ္လင် အ
၆ ပေါ်၌ပတ်ထည် ဖြန်းရမည်။– ပူဇော်သောသူ
သည်၊ထိုအကောင်၏ အရေကိုခွာတ်၍၊ အပိုင်း
၇ ပိုင်းဖြတ်ရမည်။– အာရုန်၏သား၊ ယဇ်ပရော
ဟိတ်တို့သည်၊ ယဇ်ပလ္လင်ပေါ်မှာ မီးကိုထည့်
၈ ၍၊ မီးပေါ်မှာထင်းကို ခင်းပြီးမှ၊– ထင်းပေါ်မှာ
၉ ခေါင်း၊ဆီဥ၊ သားတစ်ရှားကိုတင်ရမည်။–ခြေ
ထောက်နှင့်အဖျာအစရှိသည်တို့ကို၊ ရေနှင့်အ
ရင်ဆေးရမည်။ယဇ်ပရောဟိတ်သည်၊ထိုယဇ်
တကောင်လုံးကို၊ ယဇ်ပလ္လင် ပေါ်မှာ မီးရှို့ရ
မည်၊မီးရှို့ရာယဇ်ဖြစ်သတည်း။ ထာဝရဘုရား
အားမီးဖြင့်ဆက်ကပ်၍၊ မွှေးကြိုင်သောပူဇော်
သကာဖြစ်သတည်း။
၁၀ သိုး၊ဆိတ်ကိုမီးရှို့ရာယဇ်ပြုလိုလျှင်၊ အပြစ်
၁၁ မပါသောအထီးကိုဆောင်ခဲ့၍၊–ထာဝရဘုရား
ရှေ့တော်၌ ယဇ်ပလ္လင် မြောက်ဘက် နား မှာ
သတ်ပြီးလျှင်၊အာရုန်၏သား၊ယဇ်ပရောဟိတ်
တို့သည်၊ အသွေးကိုယဇ်ပလ္လင်အပေါ်၌ပတ်
၁၂ ထည်ဖြန်းရမည်။–ပူဇော်သောသူသည်အပိုင်း
ပိုင်းဖြတ်၍၊ ခေါင်းနှင့်ဆီဥကိုစုထားပြီးလျှင်၊
ယဇ်ပရော ဟိတ်သည်၊ ယဇ် ပလ္လင် ပေါ်၌ရှိ
၁၃ သောထင်းမီးအပေါ်မှာခင်းရမည်။–ခြေထောက်
နှင့်အဖျာ အစရှိသည်တို့ကို၊ ရေနှင့်အရင်ဆေး
ရမည်။ယဇ်ပရောဟိတ်သည်၊တကောင်လုံးကို
ဆောင်ခဲ့၍၊ ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရမည်။ မီး
ရှို့သောယဇ်ဖြစ်သတည်း။ ထာဝရဘုရားအား
မီးဖြင့် ဆက်ကပ်၍၊ မွှေးကြိုင်သော ပူဇော် သ
ကာဖြစ်သတည်း။
၁၄ ထာဝရ ဘုရားအား ငှက်ကို မီးရှို့ရာယဇ် ပြု
လိုလျှင်၊ချိုးဖြစ်စေ၊ ခိုးကလေးဖြစ်စေ၊ ဆောင်ခဲ့
၁၅ ၍ဆက်ရမည်။–ယဇ်ပရောဟိတ်သည်၊ ယဇ်
ပလ္လင်သို့ ဆောင်ခဲ့၍၊ ခေါင်းကို လိမ်ဖြတ် ပြီး
လျှင်၊ယဇ်ပလ္လင်ပေါ်မှာ မီးရှို့ရမည်။ အသွေး
၁၆ ကိုယဇ်ပလ္လင်နားမှာညှစ်ရမည်။– စာလုပ်မှစ
၍စာလုပ်၌ရှိသောအရာကိုခွာတ်ပြီးလျှင်၊ ပြာစု
ထားရာအရပ်၊ ယဇ်ပလ္လင် အရှေ့ဘက် နား၌
၁၇ ပြစ် ထား ရ မည်။– အ တောင် ပါ လျက်၊ ငှက်
ကောင်ကိုခွဲဖွင့်၍၊ယဇ်ပရောဟိတ်သည်၊ယဇ်
ပလ္လင်ပေါ်၌ရှိသော ထင်းမီး အပေါ်မှာ မီးရှို့ရ
မည်၊ မီးရှို့သော ယဇ်ဖြစ် သတည်း။ ထာဝရ
ဘုရားအား မီးဖြင့်ဆက်ကပ်၍၊ မွှေးကြိုင်သော
ပူဇော်သကာဖြစ်သတည်း။

၂

၁ ထာဝရဘုရားအား ဘောဇဉ်ပူဇော်သကာ
ပြုလိုလျှင်၊မုန့်ညက်ကိုဆက်ရမည်။ မုန့်ညက်
အပေါ်မှာဆီကိုလောင်း၍၊ လောဗန်ကိုလည်း
၂ ထည့်ပြီးမှ၊– အာရုန်၏သား၊ ယဇ်ပရောဟိတ်
ထံသို့ ဆောင်ခဲ့၍၊ ယဇ် ပရော ဟိတ်သည် မုန့်
ညက်တလက်ဆွန်း၊ဆီအချို့၊ လောဗန်ရှိသမျှ
ကိုယူ၍၊ထိုအတွက်အတာကို၊ ယဇ်ပလ္လင်ပေါ်
မှာမီးရှို့ရမည်။ ထာဝရဘုရားအားမီးဖြင့်ဆက်
ကပ်၍၊ မွှေးကြိုင် သောပူ ဇော် သကာ ဖြစ်သ
၃ တည်း။– ကျန်ကြွင်းသောဘောဇဉ် ပူဇော်သ
ကာမူကား၊ အာရုန်နှင့်သူ၏သားတို့အဖို့ဖြစ်ရ
မည်၊ထာဝရဘုရားအားမီးဖြင့်ပြုသောပူဇော်
သ ကာ ထဲက၊ အလွန် သန့် ရှင်းသော အ ရာ
ဖြစ်၏။
၄ မီးဖို၌ဖုတ်သောမုန့်ကို၊ ဘောဇဉ်ပူဇော်သ
ကာပြုလိုလျှင်၊ ဆီနှင့်မုန့်ညက်ဖြင့်လုပ်သော၊
တဆေးမဲ့မုန့်ပြားသော်၎င်း၊ဆီလူးသောတဆေး
၅ မဲ့မုန့်ကြွပ် သော်၎င်း ဖြစ်ရမည်။– သံပြားပူနှင့်
လုပ်သောမုန့်ကို၊ဘောဇဉ်ပူဇော်သကာပြုလို
လျှင်၊ ဆီရော၍တဆေးမပါသောမုန့်ညက်နှင့်
၆ လုပ်ရမည်။– ထိုမုန့်ကိုချိုးဖဲ့၍ဆီကိုလောင်းရ
မည်။ ဘောဇဉ် ပူဇော်သကာဖြစ်သတည်း။–
၇ အိုးကင်းနှင့် ကျော်သော မုန့်ကို၊ ဘောဇဉ် ပူ
ဇော်သကာ ပြုလိုလျှင်၊ ဆီရောသော မုန့်ညက်
နှင့်လုပ်ရမည်။
၈ ထိုဘောဇဉ်ပူဇော်သကာ အမျိုးမျိုးတို့ကို၊
ထာဝရဘုရားအထံတော်သို့ဆောင်ခဲ့၍၊ ယဇ်
ပရောဟိတ်အားဆက်ပြီးမှ၊သူသည်ယဇ်ပလ္လင်
၉ သို့ဆောင်ခဲ့ရမည်။–ထိုဘောဇဉ်ပူဇော်သကာ
ထဲ က၊ အ တွက် အ တာ ကို နှိုက် ယူ၍၊ ယဇ်
ပလ္လင်ပေါ်မှာ မီးရှို့ရမည်၊ထာဝရ ဘုရား အား
မီးဖြင့် ဆက်ကပ်၍၊ မွှေးကြိုင်သော ပူဇော်သ
၁၀ ကာဖြစ်သတည်း။– ကျန်ကြွင်းသောဘောဇဉ်
ပူဇော်သကာမူကား၊ အာရုန်နှင့်သူ၏ သားတို့
အဖို့ဖြစ်ရမည်၊ ထာဝရ ဘုရားအား မီးဖြင့်ပြု
သောပူဇော်သကာထဲက၊အလွန်သန့်ရှင်းသော
၁၁ အရာဖြစ်၏။– ထာဝရဘုရားအား ဆက်သော
ဘောဇဉ်ပူဇော်သကာ၌တဆေးမပါရ၊ ထာဝ
ရဘုရားအားမီးဖြင့်ပူဇော်သကာပြုသောအခါ၊
တဆေးကိုမီးမရှို့ရ၊ ပျားရည်ကိုလည်းမရှို့ရ။–
၁၂ အဦးသီးသော အသီးအနှံ ကို ပူဇော်သောအမှု

မှာ၊ တည်ဆားနှင့် ပျားရည်ကို၊ ထာဝရ ဘုရား
အား ပူဇော်ရ သော် လည်း၊ မွှေးကြိုင်ရာ အို
၁၃ ယဇ်ပလ္လင်ပေါ်မှာမီးမရှို့ရ။-ဘောဇဉ်ပူဇော်
သက္ကာ ပြုလေ ရာရာ၌ ဆားခပ် ရမည်။ သင်ပြု
သောဘောဇဉ် ပူဇော်သက္ကာ၌၊ သင်၏ဘုရား
၁၄ သခင်ပဋိညာဉ် ဆားကို မခပ်ဘဲမနေရ။- အဦး
သီးသော အသီးအနှံကို၊ ထာဝရ ဘုရား အား
ဘောဇဉ်ပူဇော် သက္ကာပြုလိုလျှင်၊ စပါးနှံကို
အရည်စစ်ထောင်မီးနားမှာထား၍၊စပါးစေ့ကို
၁၅ ပွတ်ယူပြီးမှ၊- ဆီကိုလောင်း၍၊ လောဗန်ကို
တင်လျက်၊ ပူဇော် သက္ကာကို ပြုရမည်။ ဘော
၁၆ ဇဉ်ပူဇော်သက္ကာဖြစ်သတည်း။- ပွတ်ယူသော
စပါးစေ့အချို့၊ဆီအချို့၊ လောဗန်ရှိသမျှတည်း
ဟူသော၊ ထိုဘောဇဉ်ပူဇော် သက္ကာ အတွက်
အတာကို၊ ယဇ်ပရောဟိတ်သည်မီးရှို့ရမည်။
ထာဝရဘုရားအား မီးဖြင့်ပြုသော ပူဇော်သ
ကာဖြစ်သတည်း။

၃

၁ နွားကိုမိဿဟာယယဇ်ပြုလိုလျှင်၊ အပြစ်
မပါသော အထီးအမ၊ တကောင်ကောင် ကို၊
၂ ထာဝရဘုရားရှေ့တော်၌ဆက်ရမည်။- ပူဇော်
သောနွား၏ ခေါင်းပေါ်မှာ၊ မိမိလက်ကို တင်၍၊
ပရိသတ် စည်းဝေးရာ တဲတော်တံခါး နားမှာ
သတ်ပြီးလျှင်၊အာရုန်၏သား၊ယဇ်ပရောဟိတ်
တို့သည်၊ အသွေးကို ယဇ်ပလ္လင်အပေါ်၌ပတ်
၃၊၄ လည်ဖြန်းရမည်။- အဆူကိုဖုံးသောဆီဥ၊- အ
ဆူနှင့်ဆိုင်သမျှသောဆီဥ၊ ခါးအတွင်းနား၌ ရှိ
သောကျောက်ကပ် နှစ်ခုနှင့်ကျောက်ကပ်ဆီဥ၊
ကျောက်ကပ်နှင့်တကွ၊ အသည်းပေါ်၌ရှိသော
အမြှေးတို့ကို၊ မိဿဟာယ ယဇ်ကောင် ထဲက
ယူ၍၊ ထာဝရဘုရားအားမီးဖြင့်ပြုသောပူဇော်
၅ သက္ကာတို့ဆက်ပြီးမှ၊-အာရုန်၏သားတို့သည်၊
ယဇ်ပလ္လင် အပေါ်၌ ရှိသော ထင်းမီးပေါ်မှာ
တင်သော ယဇ်ကောင်နှင့် အတူ မီးရှို့ရမည်။
ထာဝရ ဘုရားအား မီးဖြင့် ဆက်ကပ်၍၊ မွှေး
ကြိုင်သောပူဇော်သက္ကာဖြစ်သတည်း။
၆ ထာဝရဘုရားအားသို့၊ ဆိတ်ကို၊ မိဿဟာ
ယယဇ်ပြုလိုလျှင်၊ အပြစ်မပါသောအထီးအမ
၇ တကောင်ကောင်ကို ဆက်ရမည်။- သိုးသငယ်
ကိုပူဇော် လိုလျှင်၊ ထာဝရ ဘုရား ရှေ့တော်၌
၈ ဆက်ပြီးမှ၊- ပူဇော်သော သိုး၏ခေါင်း ပေါ်မှာ
မိမိလက်ကို တင်၍၊ပရိသတ် စည်းဝေးရာတဲ
တော်ရှေ့မှာ သတ်ပြီးလျှင်၊ အာရုန်၏ သားတို့
သည်အသွေးကို ယဇ်ပလ္လင်အပေါ်၌ ပတ်လည်
၉ ဖြန်းရမည်။ အကောင်ဆီဥ၊ ကြောရိုးကတိတိ
ဖြတ်သောအမြီးရှိသမျှ၊ အဆူကိုဖုံးသောဆီဥ၊
၁၀ အဆူနှင့် ဆိုင်သမျှသောဆီဥ၊- ခါးအတွင်းနား
၌ရှိသော ကျောက်ကပ် နှစ်ခုနှင့် ကျောက်ကပ်
ဆီဥ၊ ကျောက်ကပ်နှင့်တကွ အသည်းပေါ်၌ရှိ
သော အမြှေးတို့ကို၊ မိဿဟာယယဇ် ကောင်
ထဲကယူ၍၊ထာဝရဘုရားအားမီးဖြင့်ပြုသောပူ
၁၁ ဇော်သက္ကာသို့ ဆက်ပြီးမှ၊- ယဇ် ပရောဟိတ်
သည်ယဇ်ပလ္လင်ပေါ်မှာ မီးရှို့ရမည်။ ထာဝရ
ဘုရားအား မီးဖြင့်ပြုသော ပူဇော် သက္ကာ အစာ
အာဟာရ ဖြစ်သတည်း။
၁၂ ဆိတ်ကို ပူဇော်လိုလျှင်၊ ထာဝရဘုရား ရှေ့
၁၃ တော်၌ ဆက်ပြီးမှ၊- ဆိတ် ခေါင်း ပေါ်မှာ မိမိ
လက်ကိုတင်၍၊ပရိသတ်စည်းဝေးရာတဲတော်
ရှေ့မှာသတ်ပြီးလျှင်၊ အာရုန်၏သားတို့သည်အ
သွေးကို ယဇ်ပလ္လင်အပေါ်၌ပတ်လည်ဖြန်းရ
၁၄ မည်။- အဆူကိုဖုံးသောဆီဥ၊ အဆူနှင့်ဆိုင်သ
၁၅ မျှသောဆီဥ၊-ခါးအတွင်းနား၌ရှိသောကျောက်
ကပ်နှစ်ခုနှင့်ကျောက်ကပ်ဆီဥ၊ ကျောက်ကပ်
နှင့်တကွ၊အသည်းပေါ်၌ရှိသောအမြှေးတို့ကို၊
မိမိ ပူဇော်သက္ကာ ထဲကယူ၍၊ ထာဝရ ဘုရား
အား မီးဖြင့်ပြုသော ပူဇော်သက္ကာသို့ ဆက်ပြီး
၁၆ မှ၊-ယဇ်ပရောဟိတ်သည်၊ယဇ်ပလ္လင်ပေါ်မှာ
မီးရှို့ရမည်။မွှေးကြိုင်ရာအဘို့မီးဖြင့်ပြုသောပူဇော်
သက္ကာ အစာအာဟာရဖြစ်သတည်း။ ဆီဥရှိသ
၁၇ မျှကို၊ထာဝရဘုရားဆိုင်တော်မူ၏။- သင်တို့အ
မျိုး အစဉ်အဆက် တို့သည်၊ နေလေ ရာရာ၌
ဆီဥကို မစားရ၊ အသွေးကို မစားရဟူ၍၊ ထာဝရ
ပညတ်တော်ဖြစ်သည်ဟု မိန့်တော်မူ၏။

၄

၁ တဖန် မောရှေအား၊ ထာဝရဘုရားက၊ သင်
၂ သည် ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊တရားကိုမသိ၊ထာဝရဘုရား၏ပညတ်
တော်ကိုလွန်ကျူးပြစ်မှား၍၊ မပြုအပ်သောအ
၃ မှုကို ပြုမိ သည်အရာတွင်၊- ဘိသိက်ခံသော
ယဇ်ပရောဟိတ်သည်၊ လူများကိုအပြစ်ထဲသို့
သွေးဆောင်၍၊ ကိုယ်တိုင်ပြစ်မှားလျှင်၊ ထိုအ
ပြစ်အတွက်၊ အပြစ်ဖြေရာယဇ်အဘို့အပြစ်မပါ၊
၄ အသက်ပျိုသော နွားထီးကို၊- ပရိသတ်စည်း
ဝေးရာ တဲတော် တံခါး နား၊ ထာဝရဘုရားရှေ့

တော်ထဲသို့ဆောင်ခဲ့၍၊ ထာဝရဘုရားအားဆက်ရ
မည်။ ထိုအခါ နွားအ၏ ခေါင်းပေါ်မှာမိမိလက်ကို
တင်၍၊ ထာဝရဘုရားရှေ့တော်၌နွားကိုသတ်ရ
၅ မည်။– ဘိသိတ်ခံသောယဇ်ပုရောဟိတ်သည်၊
နွား၏ အသွေးကိုယူ၍၊ ပရိသတ်စည်းဝေးရာ
ထဲတော်သို့ဆောင်ခဲ့ပြီးလျှင်၊– မိမိလက်ညှိုးကို
အသွေး၌နှစ်၍၊ ဌာနရှင်းရာ ဌာနတော် ကုလား
ကာရှေ့၊ ထာဝရ ဘုရား ရှေ့တော်၌ ခုနှစ်ကြိမ်
၇ ဖြန်းရမည်။– ထိုနောက် ယဇ်ပုရောဟိတ်သည်၊
ပရိသတ်စည်းဝေးရာထဲတော်အတွင်း၊ ထာဝ
ရဘုရား ရှေ့တော်မှာရှိသော နံ့သာပေါင်းမွှေး
ကို မီးရှို့ရာ ပလ္လင် ဦးချို တို့၌ နွား အသွေး ကို
တည့်၍၊ကြွင်းသောအသွေးကို၊ ပရိသတ်စည်း
ဝေးရာ ထဲတော် တံခါးရှေ့၌ ရှိသော၊ မီးရှို့ရာ
၈ ယဇ်ပလ္လင်ခြေရင်းနားမှာသွန်ရမည်။– မီသား
သော ယဇ်ပြုသောနွား၏ဆီဥကိုယူသကဲ့သို့၊
အပြစ်ဖြေရာယဇ်ပြုသောနွားအဖျာကိုဖုံးသော
၉ ဆီဥ၊ အဖျာ နှင့် ဆိုင် ထမျှ သော ဆီဥ၊– ခါးအ
တွင်းနား၌ ရှိ သော ကျောက်ကပ် နှစ် ခု နှင့်
ကျောက်ကပ်ဆီဥ၊ ကျောက်ကပ်နှင့်တကွ၊ အ
သည်း ပေါ်၌ ရှိသော အမြှေး တည်း ဟူသော၊
နွားဆီဥရှိသမျှကိုယူ၍၊မီးရှို့ရာယဇ်ပလ္လင်ပေါ်
၁၀ မှာ ရှို့ရမည်။– နွား၏ခေါင်း၊ခြေထောက်၊အဖျာ၊
၁၁ ကျောနှင့်တကွ၊ အရေ၊ အသားရှိသမျှတည်းဟူ
၁၂ သော၊– နွားတကောင်လုံးကို၊ တပ်ပြင်မှာ ပြာ
သွန်ထားရာ ရှင်းလင်းသော အရပ်သို့ ယူသွား
၍၊ ထင်းအပေါ်၌မီးရှို့ရမည်။ ပြာသွန်၍ထား
ရာအရပ်၌မီးရှို့ရမည်။
၁၃ ဣသရေလ အမျိုးသား ပရိသတ် အပေါင်း
တို့သည်တရားကိုမသိ၊ အကျိုးအပြစ်ကိုမရိပ်မိ
ဘဲ၊ ထာဝရဘုရား၏ပညတ်တော်ကိုလွန်ကျူး
ဖြစ်မှား၍၊ မပြုအပ်သော အမှုကိုပြု မိသဖြင့်အ
၁၄ ပြစ်ရောက်လျှင်၊– ထိုသို့ဖြစ်မှားမိသော အပြစ်
ကိုသိသောအခါ၊ ထိုအပြစ်အတွက် ပရိသတ်
တို့သည်၊အသက်ပျိုသောနွားထီးကို၊ပရိသတ်
စည်းဝေးရာထဲတော်ရှေ့သို့၊ ဆောင်ခဲ့၍ဆက်ရ
၁၅ မည်။– ပရိသတ်တွင် အသက်ကြီးသောသူတို့
သည်၊ထာဝရဘုရားရှေ့တော်၌၊မိမိတို့လက်ကို
နွားခေါင်းပေါ်မှာတင်၍၊ထိုနွားကိုရှေ့တော်၌
၁၆ သတ်ရကြမည်။– ဘိသိတ်ခံသောယဇ်ပုရော
ဟိတ်သည်၊နွားအသွေးကိုပရိသတ်စည်းဝေး
၁၇ ရာထဲတော်သို့ဆောင်ခဲ့ပြီးလျှင်၊–မိမိလက်ညှိုး
ကို အသွေး၌ နှစ်၍၊ ကုလားကာရှေ့၊ ထာဝရ
၁၈ ဘုရားရှေ့တော်၌၊ ခုနှစ်ကြိမ်ဖြန်းရမည်။– ထိုနောက်
ယဇ်ပုရောဟိတ်သည်၊ ပရိသတ်စည်းဝေးရာ
ထဲတော်အတွင်း၊ ထာဝရ ဘုရား ရှေ့ တော် မှာ
ရှိသောပလ္လင် ဦးချိုတို့၌၊ အသွေးကို တည့်၍၊
ကြွင်းသောအသွေးကို၊ ပရိသတ်စည်းဝေးရာ
ထဲတော်တံခါးရှေ့၌ရှိသော၊မီးရှို့ရာယဇ်ပလ္လင်
၁၉ ခြေရင်းနားမှာ သွန်ရမည်။– နွားဆီဥရှိသမျှကို
၂၀ ယူ၍၊ ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရမည်။– အပြစ်
ဖြေရာယဇ်ပြုသောနွားကိုပြုသကဲ့သို့၊ထိုနည်း
တူဤနွားကို ပြုသဖြင့်၊ ယဇ်ပုရော ဟိတ်သည်
လူများတို့အဖို့အပြစ်ဖြေခြင်းကိုပြုလျှင်၊ သူတို့
၂၁ အပြစ် လွှတ်လိမ့် မည်။– ထိုနောက်မှ၊ နွား ကို
တပ်ပြင်သို့ ဆောင်သွား၍၊ အရင်နွားကို မီးရှို့
သကဲ့သို့ရှို့ရမည်။ပရိသတ်အဖို့ အပြစ်ဖြေရာ
ယဇ် ဖြစ်သတည်း။
၂၂ မင်းသည်လည်းတရားကိုမသိ၊ မိမိဘုရားသ
ခင်ထာဝရ ဘုရား၏ ပညတ်တော်ကို လွန်ကျူး
ဖြစ်မှား၍၊ မပြုအပ်သောအမှုကိုပြုမိသဖြင့်အ
၂၃ ပြစ်ရောက်လျှင်၊– မိမိဖြစ်မှားမိသော အပြစ်ကို
သိသောအခါ၊ အပြစ်မပါသောဆိတ်သငယ်အ
၂၄ ထီးကို၊ပူဇော်သကာဘို့ဆောင်ခဲ့ရမည်။–ဆိတ်
ခေါင်း ပေါ်မှာ မိမိ လက် ကို တင် ၍၊ ထာ ဝ ရ
ဘုရားရှေ့တော်၌ မီးရှို့ရာယဇ်ကောင် သတ်ရာ
အရပ်ကွင် သတ်ရမည်။ အပြစ်ဖြေရာ ယဇ် ဖြစ်
၂၅ သတည်း။– ယဇ်ပုရော ဟိတ် သည်၊ ထိုအပြစ်
ဖြေရာယဇ်၏အသွေးကိုလက်ညှိုးနှင့်ယူ၍၊ မီး
ရှို့ရာ ယဇ်ပလ္လင် ဦးချိုတို့၌ တည့်ပြီးမှ၊ ကြွင်း
သောအသွေးကို ထိုပလ္လင် ခြေရင်းနား၌ သွန်ရ
၂၆ မည်။– မိဿဟာယ ယဇ်ကောင် ဆီဥကိုပြုသ
ကဲ့သို့၊ ဆီဥရှိသမျှကို ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရ
မည်၊ထိုသို့ယဇ်ပုရောဟိတ်သည်မင်း၏အပြစ်
အတွက်၊အပြစ်ဖြေခြင်းကိုပြုလျှင်၊သူ၏အပြစ်
လွှတ်လိမ့်မည်။
၂၇ ထင်းရဲသားတစုံတယောက်သည် တရားကို
မသိ၊ ထာ ဝရ ဘုရား၏ ပညတ် တော် ကို လွန်
ကျူး ဖြစ်မှား၍၊ မပြုအပ်သော အမှုကို ပြုမိသ
၂၈ ဖြင့်အပြစ်ရောက်လျှင်၊– မိမိဖြစ်မှားမိသောအ
ပြစ်ကိုသိသောအခါ၊ ထိုအပြစ်အတွက်ပူဇော်
သကာဘို့၊ အပြစ်မပါသော ဆိတ်သငယ် အမ
၂၉ ကိုဆောင်ခဲ့ရမည်။–အပြစ်ဖြေရာယဇ်ပြုသော
ဆိတ်ခေါင်း ပေါ်မှာ မိမိလက်ကိုတင်၍၊ မီးရှို့

ရာယဇ်ကောင်ကိုသတ်ရာအရပ်၌၊ ထိုဆိတ်ကို
၃၀ သတ်ရမည်။- ယဇ်ပုရောဟိတ်သည် အသွေး
ကိုထိတ် ညှိုးနှင့်ယူ၍၊ မီးရှို့ရာ ယဇ်ပလ္လင်ဦး
ချိုတို့၌ထည့်ပြီးမှ၊ ကြွင်းသောအသွေးကိုယဇ်
၃၁ ပလ္လင်ခြေရင်းနားမှ၌ သွန်ရမည်။- မိဿဟာယ
ယဇ်ကောင်ဆီဥကိုယူသကဲ့သို့၊ ဆီဥရှိသမျှကို
ယူ၍၊ထာဝရဘုရားအားမွှေးကြိုင်စေရာဘို့ယဇ်
ပလ္လင်ပေါ်မှာ မီးရှို့ရမည်။ ထိုသို့ ယဇ်ပုရော
ဟိတ်သည်၊ထိုသူအဘို့အပြစ်ဖြေခြင်းကိုပြုလျှင်၊
၃၂ သူ၏ အပြစ်လွှတ်လိမ့်မည်။- သိုးသငယ်ကိုအ
ပြစ်ဖြေရာယဇ်ပြုလိုလျှင်၊အပြစ်မပါသောအမ
၃၃ ကိုဆောင်ခဲ့ရမည်။- အပြစ်ဖြေရာယဇ်ပြုသော
သိုးခေါင်းပေါ်မှာ မိမိလက်ကို တင်၍၊ မီးရှို့ရာ
ယဇ်ကောင်ကိုသတ်ရာအရပ်၌၊ အပြစ်ဖြေရာ
၃၄ ယဇ်ဖြစ်စေခြင်းငှါ သတ်ရမည်။- ယဇ်ပုရော
ဟိတ်သည်၊ ထိုယဇ်ကောင် အသွေးကို ထိတ်
ညှိုးနှင့် ယူ၍၊ မီးရှို့ရာ ယဇ်ပလ္လင် ဦးချိုတို့၌
ထည့်ပြီးမှ၊ ကြွင်းသောအသွေးကိုထိုပလ္လင်ခြေ
၃၅ ရင်းနားမှ၌သွန်ရမည်။-မိဿဟာယယဇ်ကောင်
သိုးသငယ် ဆီဥကို ပြုသကဲ့သို့၊ ဆီဥ ရှိသမျှကို
ယူ၍၊ ထာဝရဘုရားအားမီးဖြင့်ပူဇော်သကာ
နှင့်အတူ၊ ယဇ်ပလ္လင် ပေါ်မှာမီးရှို့ရမည်။ ထို
သို့ယဇ်ပုရောဟိတ်သည်၊ထိုသူပြစ်မှားမိသော
အပြစ်အတွက် အပြစ်ဖြေခြင်းကိုပြုလျှင်၊ သူ၏
အပြစ်လွှတ်လိမ့်မည်။

၅

၁ တစုံတယောက်သောသူသည်၊ အမှုကိုမြင်
သည်ဖြစ်စေ၊ သိသည်ဖြစ်စေ၊ ကျိန်ဆိုစေသော
စကားကိုကြား၍၊ သက်သေဖြစ်လျက်နှင့်၊ပြန်
မပြောဘဲ နေသဖြင့် ပြစ်မှား၍၊ မိမိဒုစရိုက်အ
၂ ပြစ်ကို ခံရသော်ငှင်၊- တစုံတယောက်သောသူ
သည် မစင်ကြယ် သော သားရဲ၊ သားယဉ်၊
တွားတတ်သောတိရစ္ဆာန်၏ အသေကောင်အ
စရှိသော၊ မစင်ကြယ်သောအရာတစုံတခုကိုအ
မှတ်တမဲ့ထိမိသဖြင့်၊ မစင်ကြယ် ရာသို့ ရောက်
၃ ၍အပြစ် ရှိသော်ငှင်၊- လူ၌ ကပ်သော၊ မစင်
ကြယ် သော အရာတစုံ တခုကို လည်း မသိဘဲ
ထိမိ၍၊ နောက်တဖန်သိလျှင်၊ အပြစ် ရှိရာသို့
၄ ရောက်သော်ငှင်၊-တစုံတယောက်သောသူသည်
ကောင်းသောအမှု၊ မကောင်းသောအမှုကို ပြု
မည်ဟု၊အကျိုးအပြစ်ကိုမသိဘဲ၊ကျိန်ဆိုလျက်
အနှုတ်ပြု၍နောက်တဖန်သိလျှင်၊အရင်ကျိန်ဆို
ချက် အနှုတ်ပြုသောရာ၌ အပြစ် တစုံ တခု
၅ ရောက်သော်ငှင်၊- ထိုသို့သော အပြစ်တစုံတခု
ရောက်လျှင်၊ ထိုအပြစ်ကိုဖော်ပြ တောင်းပန်ရ
၆ မည်။- ပြစ်မှားမိသောအပြစ်အတွက်၊ အပြစ်
ဖြေရာ ယဇ်ဖြစ်စေခြင်းငှါ သိုးသငယ် ဖြစ်စေ၊
ဆိတ်သငယ် ဖြစ်စေ၊ အမ တကောင် ကောင်
တည်းဟူသော၊ဒုစရိုက်ဖြေရာယဇ်ကိုထာဝရ
ဘုရားအထံတော်သို့ ဆောင်ခဲ့ပြီးလျှင်၊ ယဇ်ပု
ရောဟိတ်သည် ထိုသူ၏ အပြစ်အတွက် အပြစ်
ဖြေခြင်းကိုပြုရမည်။
၇ သိုးသငယ်ကို မတတ် နိုင် လျှင်၊ ပြစ် မှားမိ
သောအပြစ်အတွက်၊ အပြစ်ဖြေရာ ယဇ်တို့တ
ကောင်၊ မီးရှို့ ရာ ယဇ် တို့ တ ကောင်၊ ခို နှစ်
ကောင်၊ သို့မဟုတ်၊ ချိုးကလေး နှစ်ကောင်ကို
၈ ထာဝရဘုရားအထံတော်၊- ယဇ်ပုရောဟိတ်
ရှေ့သို့ဆောင်ခဲ့ရမည်။ ယဇ်ပုရောဟိတ်သည်
အပြစ် ဖြေ ရာ ယဇ် ကောင် ကို အရင် ပူဇော်
လျက်၊ ခေါင်းကိုလိမ်၍ ဖြတ်ရမည်။ ကိုယ်ကို
၉ ရှင်းရှင်း မခွဲရ၊- ထိုအပြစ်ဖြေရာ ယဇ်ကောင်
အသွေးကိုယဇ်ပလ္လင်နံရံ၌ဖြန်း၍၊ကြွင်းသော
အသွေးကို ယဇ်ပလ္လင် ခြေရင်းနားမှာ ညှစ်ရ
မည်၊အပြစ်ဖြေရာယဇ်ဖြစ်သတည်း။-ဒုတိယ
ငှက်ကောင်ကို၊ ပညတ်တရား အတိုင်း မီးရှို့ရာ
ယဇ် ပူဇော်ရမည်။ ထိုသို့ ယဇ်ပုရောဟိတ်
သည်၊ ထိုသူပြစ်မှား မိသော အပြစ် အတွက်၊
အပြစ် ဖြေခြင်းကို ပြုလျှင်၊ သူ၏ အပြစ် လွှတ်
လိမ့်မည်။
၁၁ ခို နှစ်ကောင် ဖြစ်စေ၊ ချိုးကလေး နှစ်ကောင်
ဖြစ်စေ၊တခုခုကိုမတတ်နိုင်လျှင်၊ ပြစ်မှားသော
သူသည်၊အပြစ်ဖြေရာယဇ်အရာ၌မုန့်ညက်အ
ပြည်ခွဲကိုဆောင်ခဲ့၍ ဆက်ရမည်။ အပြစ်ဖြေရာ
ယဇ်ဖြစ်သောကြောင့်၊ဆီကိုမလောင်းရ၊လော
၁၂ ဗန်ကိုမတင်ရ။- ယဇ်ပုရောဟိတ်ထံသို့ဆောင်
ခဲ့ပြီးလျှင်၊ ယဇ်ပုရောဟိတ်သည် မုန့်ညက်အ
ထက်ဆွန်း၊ တည်းဟူသော၊ ပူဇော်သကာ အ
တွက် အတာကိုယူ၍၊ ထာဝရဘုရားအား မီး
ဖြင့်ပြုသောပူဇော်သကာနှင့်အတူ ယဇ်ပလ္လင်
ပေါ်မှာမီးရှို့ရမည်။ အပြစ်ဖြေရာယဇ်ဖြစ်သ
၁၃ တည်း။-ထိုသို့ယဇ်ပုရောဟိတ်သည်၊ထိုသူပြစ်
မှားမိသောအပြစ်တစုံတခုအတွက်၊ အပြစ်ဖြေ
ခြင်းကို ပြုလျှင်၊ သူ၏ အပြစ် လွှတ်လိမ့် မည်။
ကြွင်းသောအရာသည်၊ဘောဇဉ်ပူဇော်သကာ

ကဲ့သို့၊ ယဇ်ပုရောဟိတ်အမှုဖြစ်သည်တည်း၊ မော
ရှေအားမိန့်တော်မူ၏။
၁၄ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၁၅ တော်မူသည်ကား၊- တစုံတယောက်သောသူ
သည် တရားကိုမသိ၊ ထာဝရဘုရားနှင့်ဆိုင်
သောအရာထို့၌ ဖွန်ကျူးပြစ်မှားမိလျှင်၊ ထို
ပြစ်မှားခြင်းအတွက်၊ ဒုစရိုက်ဖြေရာယဇ်တဦး
တူသော၊ အပြစ်မပါသော သိုးထီးကိုငှင်၊ အ
ထွတ်တော်အလိုက် ခြင့်တွက်၍ မှန်သော အ
ဖျော်ငွေကိုငှင်၊ ထာဝရဘုရား အထံတော်သို့
၁၆ ဆောင်ခဲ့ရမည်။- ထိုသို့ဘုရားနှင့်ဆိုင်သောအ
ရာ၌ပြစ်မှားမိရာကိုပြုပြင်ပြီးလျှင်၊ ငါးစုတစုကို
ထည်းထပ်၍၊ ယဇ်ပုရောဟိတ်အားပေးရမည်။
ယဇ် ပုရောဟိတ်သည်လည်း၊ ဒုစရိုက်ဖြေရာ
ယဇ်ဖြစ်သော သိုးအားဖြင့်၊ ထိုသူအဖို့အပြစ်
ဖြေခြင်းကိုပြုလျှင်၊ သူ၏အပြစ်လွှတ်ထိမ့်မည်။
၁၇ တစုံတယောက်သောသူသည်၊ ထာဝရဘုရား
မြစ်တော်မူသောအမှု တစုံတခုကိုပြု၍ ပြစ်
မှားမိလျှင်၊ ကိုယ်ပြစ်မှားမှန်းကို မသိသော်
လည်း၊ အပြစ်ရောက်၍၊ ထိုအပြစ်ကိုခံရမည်။-
၁၈ ဒုစရိုက် ဖြေရာ ယဇ်ကို ပြုခြင်းငှါ၊ ခြင့်တွက်
သော အဖျော် ငွေနှင့်တကွ၊ အပြစ်မပါသော
သိုးထီးကိုဆောင်ခဲ့ရမည်။ တရားကိုမသိ၊ ပြစ်
မှားမိသော်လည်း၊ ကိုယ်ပြစ်မှားမှန်းကို မသိ
သောသူအဖို့ ယဇ်ပုရောဟိတ်သည်အပြစ်ဖြေ
ခြင်းကိုပြုလျှင်၊ ထိုသူ၏အပြစ်လွှတ်ထိမ့်မည်။-
၁၉ ဒုစရိုက်ဖြေသောယဇ်ဖြစ်သတည်း။ အကယ်
ခင်စင်၊ ထိုသူသည်ထာဝရဘုရားကိုပြစ်မှားရော
ရောက်သတည်းဟုမိန့်တော်မူ၏။

၆

၁ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော်မူသည်ကား၊- တစုံတယောက်သောသူ
သည်သူတပါးအပ်နှံသောဥစ္စာအတွက်၊ ပေါင်
ထားသော ဥစ္စာအတွက်၊ မိမိနှင့်စပ်ဆိုင်သော
သူအား မုသာစကားကိုပြောသော်၎င်၊ သူဥစ္စာ
ကို အနိုင်အထက် ယူသော်၎င်၊ မိမိနှင့်စပ်ဆိုင်
၃ သောသူကိုဗွည်းစားသော်၎င်၊- ပျောက်သော
ဥစ္စာကိုတွေ့သောအခါ၊ မုသာစကားကိုပြော၍
ထုတ်မမှန်ဘဲကျိန်ဆိုသော်၎င်၊ ထိုသို့သောဒုစ
ရိုက်တစုံတခုကိုပြု၍၊ ထာဝရဘုရားကိုပြစ်မှား
၄ မိလျှင်၊-ထိုသူသည်ပြစ်မှား၍အပြစ်ရှောက်သော
ကြောင့်၊ အနိုင်အထက်ယူသောဥစ္စာ၊ လှည့်စား၍
ရသောဥစ္စာ၊ သူတပါးအပ်နှံသောဥစ္စာ၊ ပျောက်
၅ ၍တွေ့သောဥစ္စာ၊- မထုတ်မမှန်ဘဲကျိန်ဆို၍ရ
သောဥစ္စာ အမိုးနှင့်တကွ၊ ငါးစုတစုကိုထပ်၍၊
ဒုစရိုက်ဖြေသော ယဇ် ပူဇော်သောနေ့၌၊ ဥစ္စာ
၆ ရှင်အားပြန်ပေးရမည်။-ဒုစရိုက်ဖြေရာယဇ်ကို
ပြုခြင်းငှါ၊ခြင့်တွက်သောအဖျော်ငွေနှင့်တကွ၊
ဒုစရိုက်ဖြေရာယဇ်တည်းဟူသော၊အပြစ်မပါ
သောသိုးထီးကို၊ ထာဝရဘုရားထံတော်၊ယဇ်
၇ ပုရောဟိတ်ရှေ့သို့ ဆောင်ခဲ့ရမည်။- ယဇ်ပုရော
ဟိတ်သည်ထိုသူအဖို့၊ထာဝရဘုရားရှေ့တော်၌
အပြစ် ဖြေခြင်းကိုပြုလျှင်၊သူပြစ်မှားသမျှသော
အပြစ်လွှတ်ထိမ့်မည်ဟုမိန့်တော်မူ၏။
၈ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
၉ သည် အာရုန်နှင့် သူ၏ သားတို့အား ဆင့်ဆိုရ
သောမီးရှို့ရာယဇ်ပူဇော်ခြင်းတရားဟူမူကား၊
ယဇ်ကောင်ကို ယဇ်ပလ္လင် ထင်းမီး ပေါ်မှာ၊
တညဉ့် လုံး နံနက် တိုင်အောင် မှီစေ၍၊ ယဇ်
၁၀ ပလ္လင်မီးသည်အစဉ်ထောင်ရမည်။- ယဇ်ပ
ရောဟိတ်သည်ပိတ်အင်္ကျီ၊ပိတ်ပေါင်းဘီကိုဝတ်
လျက်၊ ယဇ်ပလ္လင်ပေါ်မှာ ကျွမ်းလောင်သော
မီးရှို့ရာယဇ်ပြာကိုကျုံး၍၊ ပလ္လင်နားမှာထား
ရမည်။- တဖန် အဝတ်ကိုထဲ၍၊ ထိုပြာကိုတပ်
ခြင်နှင့်ရှင်းလင်းသောအရပ်သို့ ယူသွားရမည်။-
၁၂ ယဇ်ပလ္လ . မီးသည် မသေဘဲ အစဉ်ထောင်ရ
မည်။ ယဇ်ပုရောဟိတ်သည် နံနက်တိုင်းထင်း
မီးထည့်၍၊ထင်းပေါ်မှာမီးရှို့ရာယဇ်ကိုခင်းရ
မည်။ ထိုပလ္လင် ပေါ်မှာလည်း၊ မိဿ ဟာထ
ယဇ်ဆီဥကိုမီးရှို့ရမည်။-ယဇ်ပလ္လင်မီးသည်
အလျှင်းမသေဘဲ၊ အစဉ်မပြတ်ထောင်ရမည်။
၁၄ ဘော ဓညီ ပူဇော် သကာ တရားဟူမူ ကား၊
အာရုန်၏သားတို့သည်ထိုပူဇော်သကာကိုထာ
ဝရဘုရားထံတော်၊ ယဇ်ပလ္လင်ရှေ့မှာ ပူဇော်
၁၅ သောအခါ၊-ဘောဓညီပူဇော်သကာစန္ဒညက်
တဆုပ်စွန်း၊ ဆီအချို့၊ လောဗန်ရှိသမျှတည်း
ဟူသော၊ပူဇော်သကာအတွက်အထာကိုယူ၍၊
ထာဝရ ဘုရား အား မွှေး ကြိုင် စရာ အို ယဇ်
၁၆ ပလ္လင်ပေါ်မှာမီးရှို့ရမည်။- ကြွင်းသော အရာ
ထို့ကို၊အာရုန်နှင့်သူ၏သားတို့သည်၊ပရိသတ်
စည်းဝေးရာ ထဲတော်ဝင်း အတွင်း တွင်၊ သန့်
၁၇ ရှင်းရာဌာန၌ တဆေးမပါဘဲ စားရမည်။- ထို
စန္ဒညက်ကို တဆေး ထည့်၍ စွန့်မထုပ်ရ။ မီး
ခြင့်အားပြုသော ပူဇော်သကာထဲက၊ ထိုစွန့်

ညက်ကို သူတို့အမှိုဖြစ်စေခြင်းငှါငါပေး၏။ အပြစ်ဖြေရာယဇ်၊ ဒုစရိုက်ဖြေရာ ယဇ်ကဲ့သို့ အ
၁၈ လွန်သန့်ရှင်းပေ၏။-အာရုန်၏သားယောကျ်ား
အပေါင်းတို့သည်စားရကြမည်။ မီးဖြင့်ထာဝရ
ဘုရားအားပြုသော ပူဇော်သကာကိုကိုင်သော
သူအပေါင်းတို့သည်သန့်ရှင်းရကြမည်ထု၊သင်
တို့အမျိုးအစဉ်အဆက် စောင့်ရသောပညတ်
တော်ဖြစ်သတည်းဟုမိန့်တော်မူ၏။

၁၉ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂၀ တော်မူသည်ကား။- အာရုန်နှင့် သူ၏သား တို့
သည် ဘိသိက်ခံသောနေ့မှစ၍၊ ထာဝရဘော
ဇဉ်ပူဇော်သကာဖြစ်စေခြင်းငှါ၊ မုန့်ညက်တ
ဧဖခွဲကို၊ နံနက် တဝက်၊ ည တ ဝက်၊ ထာဝရ
၂၁ ဘုရားအား ပူဇော်ရမည်။- ထိုမုန့်ညက်ကိုဆီ
ထည့်၍ သံပြားပူနှင့်မုန့်လုပ်ပြီးမှ၊ ဆောင်ခဲ့၍
မှုန့်ခွဲ့သဖြင့်ဘောဇဉ်ပူဇော်သကာအကျိုးအ
ခွဲ့တို့ကို၊ ထာဝရဘုရားအားမွှေးကြိုင်စရာအိုပူ
၂၂ ဇော်ရမည်။- အာရုန်အရာ၌ဘိသိက်ခံသော
သားသည်ထည်း၊ ထိုပူဇော်သကာကိုပြုရမည်။
ထာဝရဘုရားအဖို့ ထာဝရပညတ်တော်ဖြစ်သ
၂၃ တည်း။- ယဇ်ပုရောဟိတ် အတွက် ပြု သော
ဘောဇဉ်ပူဇော်သကာရှိသမျှကိုအကုန်အစဉ်
မီးရှို့ရမည်။အလျှင်းမစားရဟုမိန့်တော်မူ၏။

၂၄ တဖန် မောရှေအား၊ထာဝရဘုရားမိန့်တော်မူ
၂၅ သည်မှာ။- သင်သည် အာရုန်နှင့် သူ၏သားတို့
အားဆင့်ဆိုရသော၊ အပြစ်ဖြေရာ ယဇ်ပူဇော်
ခြင်းတရားဟူမူကား။မီးရှို့ရာယဇ်ကောင်သတ်
ရာအရပ်၌ ထာဝရဘုရားရှေ့တော်မှာ၊ အပြစ်
ဖြေရာယဇ်ကိုသတ်ရမည်။အလွန်သန့်ရှင်းပေ
၂၆ ၏။-အပြစ်ဖြေဘို့ပူဇော်သောယဇ်ပုရောဟိတ်
သည်၊ ပရိသတ်စည်းဝေးရာ ထဲတော်ဝင်းအ
၂၇ တွင်းတွင်၊သန့်ရှင်းရာဌာန၌စားရမည်။- ထိုအ
သားကိုထိသမျှသည်သန့်ရှင်း၏၊ အသွေးဖြန်း
သမျှသော အဝတ်တို့ကို၊ သန့်ရှင်းရာ ဌာန၌
၂၈ လျှော်ရမည်။-ထိုအသားပြုတ်သောမြေအိုးကို
ခွဲရမည်၊ ကြေးဝါအိုးဖြစ်လျှင်၊ ပွတ်၍ရေနှင့်
ဆေးရမည်။- ယဇ်ပုရောဟိတ်ယောကျ်ားအ
ပေါင်းတို့သည်စားရကြမည်၊ အလွန်သန့်ရှင်း
၃၀ ပေ၏။- အပြစ်ဖြေရာယဇ်အသွေးကို၊သန့်ရှင်း
ရာဌာန၌အပြစ်ဖြေခြင်းငှါ၊ ပရိသတ်စည်းဝေး
ရာ ထဲတော်အတွင်းသို့ဆောင်ခဲ့လျှင်၊ ထိုယဇ်
အသားကိုမစားရ။မီးရှို့ရမည်။

၇

၁ ဒုစရိုက်ဖြေသော ယဇ်ပူဇော်ခြင်းတရားဟူ
၂ မူကား၊ အလွန်သန့်ရှင်းပေ၏။- မီးရှို့ရာယဇ်
ကောင်ကို သတ်ရာအရပ်၌ ဒုစရိုက် ဖြေသော
ယဇ်ကောင်ကိုသတ်၍၊ အသွေးကိုယဇ်ပလ္လင်
၃ အပေါ်၌ပတ်ထဉ်ဖြန်းရမည်။-အမြီးနှင့်တကွ
၄ အဆူကိုဖုံးသောဆီဥ၊-ဝမ်းအတွင်းနားရှိသော
ကျောက်ကပ် နှစ် လုံး နှင့် ကျောက်ကပ် ဆီဥ၊
ကျောက်ကပ်နှင့်တကွ၊ အသည်းပေါ်၌ရှိသော
အမြှေး တည်းဟူသော၊ ဆီဥ ရှိသမျှကို ထုတ်၍
၅ ဆက်လျှင်၊-ယဇ်ပုရောဟိတ်သည်ယဇ်ပလ္လင်
ပေါ်မှာမီးရှို့၍၊ ထာဝရဘုရားအား မီးဖြင့်ပူ
ဇော်သကာပြုရမည်။ ဒုစရိုက်ဖြေရာယဇ်ဖြစ်
၆ သ တည်း။- အ သား ကို၊ ယဇ် ပ ရောဟိတ်
ယောကျ်ားအပေါင်းတို့သည်၊သန့်ရှင်းရာဌာန
၇ ၌စားရကြမည်၊အလွန်သန့်ရှင်းပေ၏။-အပြစ်
ဖြေရာယဇ်၊ဒုစရိုက်ဖြေရာယဇ်၏တရားတပါး
တည်းဖြစ်၍၊ဒုစရိုက်အပြစ်ဖြေခြင်းကိုပြုသော
၈ ယဇ် ပရောဟိတ်သည် ယူရမည်။- လူတစုံတ
ယောက်ပြုသော မီးရှို့ရာယဇ်ကို ပူဇော်သော
ယဇ်ပရောဟိတ်သည်၊ မိမိပူဇော်သော ယဇ်
၉ ကောင် အရေကိုယူရမည်။- မီးဖို၌ ဖုတ်သော
ဘောဇဉ်ပူဇော်သကာ၊ အိုးကင်း၊ သံပြားပူ
နှင့်လုပ်သောအရာရှိသမျှကိုပူဇော်သော ယဇ်
၁၀ ပရောဟိတ် သည် ယူရမည်။- ဆီ ထည့် သည်
ဖြစ်စေ၊မထည့်သည်ဖြစ်စေ၊ ဘောဇဉ်ပူဇော်
သကာရှိသမျှကို၊ အာရုန်၏ သား အပေါင်း တို့
သည်အညီအမျှယူရကြမည်။

၁၁ ထာဝရဘုရားအားပြုရသော၊ မိဿဟာယ
၁၂ ယဇ် ပူဇော်ခြင်း တရား ဟူမူကား။- ကျေးဇူး
တော်ဝန်ခံမှုရာပူဇော်လျှင်၊ ကျေးဇူးတော်ဝန်
ခံရာယဇ်နှင့်တကွ၊ ဆီရောသော တဆေးမဲ့မုန့်
ပြား၊ ဆီနှင့်လုပ်သော တဆေးမဲ့မုန့်ကြွပ်၊ ဆီ
ရောသော မုန့်ညက်နှင့်လုပ်၍ ကြော်သော မုန့်
၁၃ ပြားတို့ကိုပူဇော်ရမည်။-, ထိုမုန့်ပြားမှတပါး၊
မိဿဟာယပူဇော်သကာနှင့်ဆိုင်သော၊ ကျေး
ဇူးတော် ဝန်ခံရာ ယဇ်နှင့် တကွ၊ တဆေး ပါ
၁၄ သော မုန့်ကိုထည်း ပူဇော် ရမည်။- ပူဇော်သ
ကာရှိသမျှအထဲက မုန့်တလုံးကို ထာဝရဘုရား
အားချီမြှောက်သောပူဇော်သကာပြု၍၊ ထိုမုန့်
ကို၊ မိဿဟာယယဇ်အသွေးဖြန်းသော ယဇ်
၁၅ ပရောဟိတ်ယူရမည်။- ကျေးဇူးတော်ဝန်ခံဘို့



 

ရာပူဇော်သော မိဿဟာယ ယဇ်အသားကို၊
ပူဇော်သောနေ့ချင်းတွင်စားရမည်၊ နံနက်တိုင်
အောင်မကြွင်းစေရ။
၁၆ ထိုမှတပါး၊သစ္စာပြု၍ ယဇ်ပူဇော်သည်ဖြစ်
စေ၊ကိုယ်အလိုအလျောက်ပူဇော်သည်ဖြစ်စေ၊
ပူဇော်သော နေ့ချင်းတွင်၊ ယဇ်အသားကို စား
၍၊ အကြွင်းကို ထည်း နက်ဖန်နေ့ စားရမည်။-
၁၇ ကြွင်းသေးသောအသားကိုထည်း၊သန်ဘက်နေ့၌
၁၈ မီးရှို့ရမည်။-မိဿဟာယယဇ်အသားအနည်း
ငယ်ကို၊ သန်ဘက် နေ့၌ စားမိလျှင်၊ မိတ်တော်
နှင့်မတွေ့၊ ပူဇော်သောသူသည် အကျိုးကိုမရ၊
စက်ဆုပ်ဘွယ်ဖြစ်လိမ့်မည်၊စားသောသူသည်ကိုယ်
၁၉ အပြစ်ကိုခံရလိမ့်မည်၊-မစင်ကြယ်သောအရာ
နှင့်ထိမိသောယဇ်သားကိုမစားရ၊ မီးရှို့ရမည်၊
စင်ကြယ်သော သူတို့သာလျှင် ထိုယဇ် သားကို
၂၀ စားရကြမည်။- ထာဝရဘုရားနှင့် ဆိုင်သော
မိဿဟာယ ယဇ်သားကို၊ အကြင်သူသည်မ
စင်ကြယ်သောအပြစ်ရှိလျက်နှင့်စားမိ၏၊ ထိုသူ
၂၁ ကို၊ လူ၏အမျိုးမှ ပယ်ရှင်းရမည်။- အကြင်သူ
သည်ထည်း၊ လူ၌မစင်ကြယ်သောအရာ၊ မစင်
ကြယ်သောသား၊ မစင်ကြယ်သော ပိုးရွအစရှိ
သော၊ မစင်ကြယ်သောအရာ တစုံတခုကို ထိမိ
၍၊ ထာဝရဘုရားနှင့် ဆိုင်သော မိဿဟာယ
ယဇ်သားကိုစား၏၊ထိုသူကို၊ သူ၏အမျိုးမှပယ်
ရှင်းရမည်ဟုမိန့်တော်မူ၏။
၂၂၊၂၃ တဖန်မောရှေအားထာဝရဘုရားက၊-သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊ သင်တို့သည်သိုး၊ ဆိတ်၊ နွားဆီဥကို
၂၄ အလျှင်းမစားရ။- အလိုလိုသေသောတိရိစ္ဆာန်
ဆီဥ၊ သားရဲကိုက်၍ သေသော တိရိစ္ဆာန်ဆီဥ
ကို အခြားအသုံးရသော်ထည်း၊ အလျှင်းမစား
၂၅ ရ။-အကြင်သူသည်၊ထာဝရဘုရားအားမီးဖြင့်ပူ
ဇော်သကာ ပြုသော တိရိစ္ဆာန် ဆီဥကိုစား၏၊
၂၆ ထိုသူကို၊ သူ၏အမျိုးမှ ပယ်ရှင်းရမည်။- သင်
တို့သည်နေထိုင်ရာရာ၌ ငှက်သွေး၊သားသွေးမှ
၂၇ စ၍၊ အသွေး မည်သမျှကို မစားရ၊- အကြင် သူ
သည်၊တစုံတခုသောအသွေးကို စား၏၊ထိုသူကို၊
သူ၏အမျိုးမှပယ်ရှင်းရမည်ဟုမိန့်တော်မူ၏။
၂၈၊၂၉ တဖန်မောရှေအားထာဝရဘုရားက၊-သင်
သည် ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊ ထာဝရဘုရားအားမိဿဟာယယဇ်
ကိုပူဇော်သောသူသည် ... ပူဇော်သောယဇ်

အထဲက၊ ထာဝရဘုရားအားဆက်ဖို့ရာဆောင်
၃၀ ခဲ့ရမည်။- ထာဝရဘုရားရှေ့တော်၌ ရင်ပတ်ကို
ဝှေ့ယမ်း၍၊ ဝှေ့ယမ်းသောပူဇော်သကာပြုစေခြင်းငှါ၊
ရင်ပတ်နှင့်ဆီဥတည်းဟူသော၊ မီးဖြင့်ထာဝရ
ဘုရားအား ပူဇော် သော အရာကို ကိုယ် တိုင်
၃၁ ဆောင်ခဲ့ရမည်။-ယဇ်ပုရောဟိတ်သည်၊ ဆီဥ
ကို ယဇ်ပလ္လင်ပေါ်မှာမီးရှို့၍၊ ရင်ပတ်ကိုအာ
၃၂ ရုန်နှင့် သူ၏သားတို့သည်ယူရကြမည်။- မိဿ
ဟာယ ယဇ်ထဲက လက်ျာပခုံးကို၊ မြှောက်
သော ပူဇော်သကာအဘို့ ယဇ်ပုရောဟိတ် အား
၃၃ ပေးရမည်။-မိဿဟာယယဇ်အသွေးနှင့်ဆီဥ
ကို၊ အာရုန်၏သားတို့တွင်ပူဇော်သောသူသည်၊
၃၄ လက်ျာပခုံးကိုမိမိအဘို့ယူရမည်။-ဣသရေလအ
မျိုးသားတို့ပြုသောမိဿဟာယယဇ်များထဲက
ဝှေ့ယမ်းသောရင်ပတ်၊ မြှောက်သော ပခုံးကိုငါ
နှုတ်ယူ၍၊ ဣသရေလအမျိုးသားတို့တွင်ယဇ်
ပုရောဟိတ်အာရုန်နှင့်သူ၏သားတို့အား၊ထာဝ
ရ ပညတ်တော်အားဖြင့်ငါပေးပြီဟု မိန့်တော်
၃၅ မူ၏။-ထိုသို့အာရုန်နှင့်သူ၏သားတို့သည်၊ ထာ
ဝရဘုရားရှေ့တော်မှာ ယဇ်ပုရောဟိတ်အမှုကို
ဆောင်ရွက်မည်အကြောင်း၊သူတို့ကိုခန့်ထား
သောနေ့၌ ထာဝရ ဘုရားအား မီးဖြင့်ပြုသော
ပူဇော် သကာများထဲက၊ သူတို့ ခံရသော အဘို့
၃၆ ဖြစ်၏။- ဣသရေလ အမျိုးသားတို့ ထံမှ ထို
သို့သော အဘို့ကို ခံရမည်အကြောင်း၊ သူတို့ကို
တိသိတ်ပေးတော် မူသောနေ့၌ ထာဝရဘုရား
မှာထားတော်မူ၏၊ သူတို့အမျိုး အစဉ်အဆက်
၃၇ စောင့်ရသောပညတ်ဖြစ်သတည်း။-ဤရွေ့ကား၊
၃၈ ဣသရေလ အမျိုးသား တို့သည်၊ သိနာတောင်၌
ထာဝရဘုရားအား ပူဇော်သကာ ပြုရမည် အ
ကြောင်း၊ မှာထား တော် မူသော နေ့၌ သိနာ
တောင် ပေါ်မှာ ထာဝရ ဘုရားသည်၊ မောရှေ
အားပေးတော်မူသောမီးရှို့ရာယဇ်တရား၊ဘော
ဇဉ်ပူဇော်သကာတရား၊ အပြစ်ဖြေရာယဇ်တ
ရား၊ ဒုစရိုက်ဖြေရာ ယဇ်တရား၊ အရာ၌ ခန့်
ထားရာ ယဇ်တရား၊ မိဿဟာယ ယဇ်တရား
ဖြစ်သတည်းဟုမိန့်တော်မူ၏။

၈

၁ တဖန် ထာဝရ ဘုရားက၊ သင်သည် အာရုန်
၂ နှင့်သူ၏သားများ၊ အဝတ်များ၊ လိမ်းရန်ဆီ၊ အ
ပြစ်ဖြေရာယဇ်ဘို့ နွားထီး၊ သိုးထီးနှစ်ကောင်၊
၃ အဆေးမဲ့ ရင်္ဂတောင်းကိုယူ၍ ... ပရိသတ်

စည်းဝေးရာထဲတော်တံခါးရှေ့သို့၊ ပရိသတ်အပေါင်းကိုစည်းဝေးစေလေ၌ဟု၊ မောရှေအားမိန့်
၄ တော်မူသည်အတိုင်း၊-မောရှေပြု၍၊ ပရိသတ်ထို့သည်၊ ပရိသတ်စည်းဝေးရာ ထဲတော်တံခါး
၅ ရှေ့မှာစည်းဝေးကြ၏။- မောရှေကလည်း၊ ဤသို့ထာဝရဘုရားမှာထားတော်မူပြီဟု၊ ပရိသတ်
၆ ထိုအားပြောဆိုလျှက်၊- ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊ အာရုန်နှင့်သူ၏သားတို့
၇ ကို ခေါ်ခဲ့၍ရေချိုးပြီးလျှင်၊- အာရုန်ကိုအင်္ကျီဝတ်စေ၍၊ ခါးပန်းကိုစည်းစေလေ၏၊ ဝတ်လုံနှင့်သင်တိုင်းကိုလည်း ချုံစေ၍၊ ထူးဆန်းသောသင်
၈ တိုင်းခါးစည်းဖြင့်စည်းလေ၏၊-ရင်ဖုံးကိုလည်း ဆင်စေ၍၊ ရင်ဖုံးအထဲ၌ဥရိမ်နှင့်သုမိမ်ကိုသွင်း
၉ ထားလေ၏၊- သူ၏ခေါင်းပေါ်မှာပေါင်းကိုတင်၍၊ သန့်ရှင်းသောရွှေသင်းကျဉ်ပြားကို၊ ပေါင်း
၁၀ ရှေ့၌တပ်လေ၏၊- ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊ မောရှေသည်လိမ်းရန်ဆီကိုယူ၍၊ ထဲတော်နှင့်ထဲတော်တန်ဆာရှိသမျှကိုလိမ်း
၁၁ သခြင့်သန့်ရှင်းစေ၏၊-ထိုဆီကိုယဇ်ပလ္လင်ပေါ်မှာခုနစ်ကြိမ်ဖြန်း၍၊ ယဇ်ပလ္လင်တန်ဆာရှိသမျှကိုငှင်၊ အင်တုံနှင့် ခြေထောက် ကိုငှင်၊ သန့်
၁၂ ရှင်းစေခြင်းငှါလိမ်းလေ၏၊-လိမ်းရန်ဆီကိုအာရုန်ခေါင်းပေါ်မှာ လောင်း၍၊ သူကိုသန့်ရှင်းစေ
၁၃ ခြင်းငှါလိမ်းလေ၏။- အာရုန်၏သားတို့ကိုလည်း အင်္ကျီဝတ်စေ၍၊ ခါးပန်းကိုစည်းစေလျှက်၊ ဦးထုပ်ကိုဆောင်းစေလေ၏။

၁၄ ထာဝရဘုရား မှာထားတော်မူသည်အတိုင်း၊ အပြစ်ဖြေရာ ယဇ်ဘို့ နွားထီးကို ဆောင်ခဲ့ ၍၊ အာရုန် နှင့် သူ၏သား တို့သည်၊ မိမိတို့လက်ကို
၁၅ နွားခေါင်းပေါ်မှာတင်ကြ၏၊- နွားကိုသတ်၍၊ မောရှေသည် ယဇ်ပလ္လင် ပတ်လည် ဦးချိုတို့၌ အသွေးကို၊ လက် ညှိုး နှင့်ယူ၍ ထည့်သဖြင့်၊ ယဇ်ပလ္လင်ကို စင်ကြယ် စေပြီးမှ၊ ကြွင်းသော အသွေးကို၊ ယဇ်ပလ္လင်ခြေရင်းနားမှာ၌သွန်၍၊ ထို ယဇ်ပလ္လင်ပေါ်မှာ အပြစ်ဖြေခြင်းကို ပြုမည်အ
၁၆ ကြောင်း သန့်ရှင်းစေ၏၊- အဇူကိုဖုံးသောဆီဥ ရှိသမျှ၊ အသည်းပေါ်၌ရှိသောအမြှေး၊ ကျောက်ကပ်နှစ်ခုနှင့် ကျောက်ကပ် ဆီဥကိုယူ၍၊ ယဇ်
၁၇ ပလ္လင်ပေါ်မှာ မီးရှို့လေ၏၊- အရေ၊ အသား၊ ချေးနှင့် တကွ၊ နွားကောင်ကို၊ တပ်ပြင်မှာရှို့ ရ၏။

၁၈ ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊ မီးရှို့ရာယဇ်ပြုသောသိုးထီးကိုလည်း ဆောင်ခဲ့ ၍၊ အာရုန်နှင့်သူ၏သားတို့သည်၊ မိမိတို့လက်
၁၉ ကိုသိုးခေါင်းပေါ်မှာ တင်ကြ၏၊- သိုးကို သတ်ပြီးလျှင်၊ မောရှေသည်အသွေးကို၊ ယဇ်ပလ္လင်
၂၀ အပေါ်၌ပတ်လည်ဖြန်းလေ၏၊- သိုးကိုလည်း၊ အပိုင်းပိုင်းဖြတ်ပြီးလျှင်၊ ခေါင်းမှစ၍သားတစ်
၂၁ ရှားနှင့်ဆီဥကို မီးရှို့လေ၏၊- ဝမ်းထဲ၌ရှိသော အရာနှင့်ခြေတို့ကိုဆေးကြော၍၊ သိုးတကောင်လုံးကိုယဇ်ပလ္လင်ပေါ်မှာမီးရှို့လေ၏၊ မွှေးကြိုင်ရာဘို့မီးရှို့သောယဇ်ဖြစ်သတည်း၊ မီးဖြင့်ထာဝရဘုရားအား ပြုသော ပူဇော် သက္ကာ ဖြစ်သတည်း။

၂၂ ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊ အခြား သော သိုး၊ အရာ၌ ခန့်ထား ရာ သိုးကိုဆောင်ခဲ့၍၊ အာရုန်နှင့်သူ၏သားတို့သည်၊ မိမိ
၂၃ တို့လက်ကို သိုးခေါင်းပေါ်မှာတင်ကြ၏၊- သိုးကိုသတ်ပြီးမှ၊ မောရှေသည် အသွေးကိုယူ၍၊ အာရုန်၏ လက်ျာနားဖျားပျဉ်း၌၎င်း၊ လက်ျာ လက်မ၌
၂၄ ၎င်း၊ လက်ျာခြေမ၌၎င်းထည့်လေ၏၊- အာရုန်၏သား တို့ကိုလည်း ခေါ်ခဲ့၍၊ သူတို့ လက်ျာနားဖျား၊ လက်ျာလက်မ၊ လက်ျာခြေမတို့၌အသွေးကိုထည့်ပြီးမှ၊ ယဇ်ပလ္လင်အပေါ်၌ ပတ်လည်
၂၅ ဖြန်းလေ၏၊- ဆီဥ၊ အမြီး၊ အဇူကိုဖုံးသောဆီဥ၊ အသည်းပေါ်၌ရှိသောအမြှေး၊ ကျောက်ကပ်နှစ်ခုနှင့်ကျောက်ကပ်ကိုဖုံးသောဆီဥ၊ လက်ျာ
၂၆ ပခုံး၊- ထာဝရဘုရားရှေ့တော်၌ ထားသောအဆေးမဲ့ မုန့်တောင်းထဲက၊ အဆေးမဲ့မုန့်တလုံး၊ ဆီနှင့်လုပ်သောမုန့်ပြားတပြား၊ မုန့်ကြွပ်တချပ်ကိုယူ၍၊ မုန့်များကိုဆီဥနှင့်လက်ျာ ပခုံးပေါ်မှာ
၂၇ ထည့်ပြီးလျှင်၊- အာရုန်၏လက်၊ သူ၏သားတို့လက်၌၊ ထိုအရာတို့ကိုထား၍၊ ထာဝရဘုရား ရှေ့တော်၌ မြှောက်လွှဲသဖြင့်၊ မြှောက်လွှဲသောပူဇော်သက္ကာ
၂၈ ပြုလေ၏၊- ထိုအရာတို့ကို၊ သူတို့လက်မှခံယူ၍၊ ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရာယဇ်နှင့်အတူ ရှို့လေ၏၊ မွှေးကြိုင်သောအနံ့ရှိ၍၊ အရာ၌ခန့်ထားရာ ယဇ်ဖြစ်သတည်း၊ ထာဝရဘုရားအား မီးဖြင့်
၂၉ ပြုသောပူဇော်သက္ကာဖြစ်သတည်း၊- ထိုနောက်၊ မောရှေသည် ရင်ပတ်ကိုယူ၍၊ ထာဝရ ဘုရား ရှေ့တော်၌မြှောက်လွှဲသဖြင့်၊ မြှောက်လွှဲသောပူဇော်သက္ကာ ပြုလေ၏၊ အရာ၌ခန့်ထားရာသိုး၏ရင်ပတ်သည်၊
၃၀ မောရှေ၏အဘို့ဖြစ်သတည်း၊- ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊ ယဇ်ပလ္လင်ပေါ်မှာရှိသော အသွေးနှင့် လိမ်းရန်ဆီကို ယူ

၍၊ အာရုန်နှင့်သူ၏အဝတ်၌၎င်း၊ သူ၏သားတို့
နှင့်သူတို့အဝတ်၌၎င်းဖြန်းသဖြင့်၊အာရုန်မှစ၍
သားများ၊အဝတ်များတို့ကိုသန့်ရှင်းစေလေ၏၊
၃၁ မောရှေသည်၊ အာရုန်နှင့်သူ၏သားတို့အား
လည်း၊ထိုသိုး၏အသားကို၊ ပရိသတ်စည်းဝေး
ရာတဲတော်တံခါးနားမှာပြုတ်ကြလော့၊ ထာဝ
ရဘုရားက၊အာရုန်နှင့်သူ၏သားတို့သည်၊ထိုအ
သားကိုစားရကြမည်ဟု၊ ငါ့အားမှာထားတော်
မူသည်အတိုင်း၊ ထိုအသားကို၎င်း၊ အရာ၌ခန့်
ထားရာ ရန် တောင်း၌ ရှိသောရန်ကို၎င်း၊ ထိုအ
၃၂ ရပ်၌ စားကြလော့၊- ကျန်ကြွင်းသော အသား
၃၃ နှင့်ရန်ကို မီး၌ရှို့ရမည်၊- သင်တို့ကိုအရာ၌ ခန့်
ထားရာ ကာလ ခုနစ် ရက် မစေ့မှီ၊ ပရိသတ်
စည်းဝေးရာတဲတော်တံခါးပြင်သို့မထွက်ရကြ၊
ခုနစ်ရက်ပတ်လုံးအရာ၌ခန့်ထားခြင်းမင်္ဂလာ
၃၄ ကိုဆောင်ရကြမည်၊-ယနေ့ပြုသည်အတိုင်း၊သင်
တို့အဘို့ အပြစ်ဖြေခြင်းကို ပြုမည်အကြောင်း၊
၃၅ ထာဝရ ဘုရားမှာထားတော်မူပြီ၊- ထိုကြောင့်
သင်တို့သည်၊ သေဘေးနှင့်ကင်းလွတ်ခြင်းငှါ၊
ပရိသတ်စည်းဝေးရာ တဲတော်တံခါး နားမှာ၊
ခုနစ်ရက်ပတ်လုံး၊နေ့ညဉ့်မပြတ်နေ၍၊ထာဝ
ရဘုရား၏အမှုတော်ကို စောင့်ရကြမည်၊ ထိုသို့
ငါ့အားမှာထားတော်မူပြီဟုဆင့်ဆိုသည်ဖြစ်၍၊-
၃၆ မောရှေအားဖြင့်ထာဝရဘုရားမှာထားတော်မူ
သမျှအတိုင်း၊ အာရုန်နှင့် သူ၏သားတို့သည်ပြု
ကြ၏။

၉

အဋ္ဌမ နေ့၌ မောရှေသည်၊ အာရုန်နှင့် သူ၏
သားများ၊ဣသရေလအမျိုးအသက်ကြီးသူများ
၂ တို့ကိုခေါ်၍၊-အာရုန်အားသင်သည်အပြစ်ဖြေ
ရာယဇ်အဘို့၊ အပြစ် မပါ သော နွား သငယ် တ
ကောင်၊ မီးရှို့ရာ ယဇ်အဘို့၊ အပြစ် မပါသောသိုး
ထီးတကောင်ကိုယူ၍၊ ထာဝရဘုရားရှေ့တော်
၃ ၌ပူဇော်လော့၊-ဣသရေလအမျိုးသားတို့အား
လည်း၊သင်တို့သည်အပြစ်ဖြေရာယဇ်အဘို့ဆိတ်
သငယ်တကောင်၊ မီးရှို့ရာယဇ်အဘို့ အပြစ်မပါ၊
အစါမထည်သော နွားသငယ်တကောင်၊ သိုး
၄ သငယ်တကောင်၊- ထာဝရဘုရားရှေ့တော်၌ပူ
ဇော် သော မိ ဿ ဟ ယ ယဇ် အဘို့ နွား ထီး တ
ကောင်၊ သိုးထီး တ ကောင်၊ ဆီနှင့် ရော သော
ဘောဇဉ်ပူဇော် သက္ကာကိုယူကြလော့၊ ယနေ့
ထာဝရဘုရား၊ထင်၍၊ သင်တို့အားထင်ရှားတော်
၅ မူမည်ကိုပြောလေဘုဆိုလေ၏၊- မောရှေမှာ
ထားသောအရာတို့ကို၊ ပရိသတ်စည်းဝေးရာ
တဲတော် ရှေ့သို့ ဆောင်ခဲ့ ပြီးမှ၊ ပရိသတ် အ
ပေါင်းတို့သည်ချဉ်းကပ်၍၊ ထာဝရဘုရားရှေ့
၆ တော်၌ရပ်နေကြ၏၊-မောရှေကလည်း၊သင်တို့
သည်၊ ထာဝရဘုရား၊မိန့်တော်မူသည်အတိုင်း
ဤသို့ပြုကြ၍၊ထာဝရဘုရား၏ဘုန်းတော်သည်
၇ သင်တို့အား ထင်ရှားမည် ဟူ၍၎င်း၊- အာရုန်
အားလည်း၊ သင်သည် ယဇ်ပလ္လင်သို့ သွား၍၊
ထာဝရ ဘုရား မှာထားတော် မူသည် အတိုင်း၊
သင်၏ အပြစ် ဖြေ ရာယဇ်၊ မီးရှို့ရာ ယဇ်ကိုပူ
ဇော်သဖြင့်၊သင်နှင့်လူများအတွက်၊အပြစ်ဖြေ
ခြင်းကို ပြုလော့၊လူများဆောင်ယူခဲ့သောပူဇော်
သက္ကာကိုလည်း ပူဇော်၍၊ သူတို့အတွက်၊ အ
ပြစ်ဖြေခြင်းကိုပြုလော့ဟူ၍၎င်းဆိုလေ၏။
၈ အာရုန်သည်လည်း၊ ယဇ်ပလ္လင်သို့သွား၍၊
မိမိနှင့်ဆိုင်သောအပြစ်ဖြေရာယဇ်နွားသငယ်
၉ ကိုသတ်လေ၏၊-သူ၏သားတို့လည်း၊အသွေးကို
ယူဆောင်ခဲ့သဖြင့်၊ အာရုန်သည် မိမိလက်ညှိုး
ကိုအသွေး၌နှစ်၍၊ယဇ်ပလ္လင်ဦးချိုတို့၌ထည့်
ပြီးမှ၊ ကြွင်းသော အသွေးကို ယဇ်ပလ္လင်ခြေ
၁၀ ရင်းနား၌သွန်လေ၏၊-အပြစ်ဖြေရာယဇ်ကောင်
ဆီဥ၊ ကျောက်ကပ်၊ အသည်း ပေါ်၌ ရှိ သော
အမြှေးကိုယဇ်ပလ္လင်ပေါ်မှာမီးရှို့လေ၏၊ထိုသို့
ထာဝရဘုရားသည် မောရှေအားမှာထားတော်
၁၁ မူ၏၊- အသားနှင့်အရေကိုတပ်ပြင်မှာမီးရှို့လေ
၁၂ ၏၊- မီးရှို့ရာ ယဇ်ကောင်ကိုလည်း သတ်၍၊သူ
၏သားတို့သည် အသွေးကို ဆက်ပြီးလျှင်၊ သူ
သည်ယဇ်ပလ္လင်အပေါ်ပတ်လည်၌ ဖြန်းလေ
၁၃ ၏၊- သူတို့သည်မီးရှို့ရာ ယဇ်ကောင်သားတစ်
များနှင့်ခေါင်းကိုဆက်၍၊ သူသည်ယဇ်ပလ္လင်
၁၄ ပေါ်မှာမီးရှို့လေ၏၊-ဝမ်းထဲ၌ရှိသောအရာများ
နှင့်ခြေတို့ကိုဆေးကြော၍၊ ယဇ်ပလ္လင်ပေါ်မှာ
မီးရှို့ရာယဇ်နှင့်အတူရှို့လေ၏။
၁၅ လူများပူဇော်သက္ကာကိုလည်းဆောင်ခဲ့၍၊လူ
များ အပြစ် ဖြေရာ ယဇ်ဖြစ်သော ဆိတ် ကို ယူ
သတ်ပြီးလျှင်၊ ရှေးနည်းအတူ၊ အပြစ်အတွက်ပူ
၁၆ ဇော်လေ၏၊- မီးရှို့ရာ ယဇ် ကောင် ကို လည်း
၁၇ ဆောင်ခဲ့ ၍၊ ထိုနည်းတူ ပူဇော် လေ၏၊- ဘော
ဇဉ် ပူဇော်သက္ကာကိုလည်းဆောင်ခဲ့ပြီးလျှင်၊
တဆုပ်စွန်းကိုယူ၍၊ယဇ်ပလ္လင်၌နံနက်မီးရှို့
ရာယဇ်နားမှာ မီးရှို့လေ၏၊- လူများအတွက်၊

မိထားထားသော ထင်းရှုးထီး၊ ဆိုးထီးကို ထည့်
သတ်၍၊ လူ၏သားတို့သည်အသွေးကိုဆက်ပြီး
လျှင်၊ သူသည် ယဇ်ပလ္လင် အပေါ်ပတ်ထည့်၌
၁၉ ဖြန်းလေ၏။- အမြီးနှင့်တကွ၊ အဆူကိုဖုံးသော
ဆီဥ၊ကျောက်ကပ်၊ အသည်းအမွှေးတည်းဟူ
၂၀ သော၊ဆိုးနွားဆီဥကို၊- ရင်ပတ်ပေါ်မှာတင်၍
၂၁ ယဇ်ပလ္လင်၌ မီးရှို့လေ၏။- ရင်ပတ်နှင့်လက်ျာ
ပခုံးကို ထာဝရဘုရားရှေ့တော်၌မြှောက်လှဲ၍၊ မြှောက်လှဲ
သောပူဇော်သက္ကာကိုပြုလေ၏၊ ထိုသို့ပြုရမည်
၂၂ ဟု၊ မောရှေမှာထားသတည်း။- အာရုန်သည်
မိမိလက်ကို လူများရှေ့သို့ မြှောက်လျက်ကောင်းကြီး
ပေး၍၊ အပြစ်ဖြေရာယဇ်၊မီးရှို့ရာယဇ်၊ မိဿ
၂၃ ဟာယဇ်ကိုပူဇော်ရာမှဆင်းလေ၏။- တဖန်
မောရှေ နှင့် အာရုန် တို့သည်၊ ပရိသတ် စည်း
ဝေးရာတဲတော်ထဲသို့ ဝင်၍ထွက်ပြီးမှ၊ လူများ
ကို ကောင်းကြီး ပေး သဖြင့်၊ ထာ ဝရ ဘုရား ၏
ဘုန်းတော်သည်၊ လူများတို့အားထင်ရှားလေ
၂၄ ၏။- ထာဝရဘုရားထံတော်မှမီးထွက်၍၊ ယဇ်
ပလ္လင်ပေါ်မှာ ရှိသော မီးရှို့ရာယဇ်နှင့် ဆီဥကို
လောင်လေ၏၊ ထိုအကြောင်းအရာကို၊ လူများ
တို့သည်မြင်သောအခါ၊ ကြွေးကြော်၍ပြပ်ဝပ်
ကြ၏။

## ၁၀

၁ အာရုန်၏သားနာဒပ်နှင့် အဘိဟု တို့သည်၊
ကိုယ်စီ ဆိုင်သော လင်ပန်း၊ တို့ကို ယူလျက် မီး
ကိုထည့်၍၊ လောဗန်ကို တင်ပြီးလျှင်၊ ထာဝရ
ဘုရားမှာထားတော်မူသောမီးမဟုတ်၊ထူးခြား
သောမီးကိုရှေ့တော်၌ပူဇော်၏။-ထိုအခါ၊ ထာ
ဝရ ဘုရား ထံ တော် မှ မီး ထွက် ၍၊ သူ တို့ ကို
၃ လောင်သဖြင့်ရှေ့တော်၌သေကြ၏။- ထိုအခါ၊
မောရှေသည်အာရုန်ကိုခေါ်၍၊ ထာဝရဘုရား
က၊ငါသည် သန့်ရှင်းခြင်း ရှိသည်ဟု၊ ငါ့ထံသို့
ချဉ်းကပ်သော သူတို့သည် မှတ်ရမည်၊ လူအ
ပေါင်းတို့သည်၊ ဘုန်းကိုချီးမြင့် ရကြမည်ဟု
မိန့်တော်မူရာ၌၊ ထိုသို့သောအမှုကို ရည်စောင်
၍၊ မိန့်တော်မူသည်ဟု ဆိုလျှင်၊ အာရုန်သည်
၄ တိတ်ဆိတ်စွာနေလေ၏။-မောရှေသည်အာရုန်
၏ဘထွေးဩဇေလသားမိရှေလနှင့် လေဇာဖန်
ကိုခေါ်၍၊ လာကြ၊ သင်တို့ ပေါက်ဖော်တို့ကို၊
သန့်ရှင်းရာဌာနတော်က၊တပ်ပြင်သို့ယူသွားကြ
လော့ဟုဆို သည်အတိုင်း၊-သူတို့သည် ထ၍
အင်္ကျီဝတ်လျက်ရှိသောအသေကောင်ကို၊ တပ်
၆ ပြင်သို့ ယူသွားကြ၏။- မောရှေသည်၊ အာရုန်
နှင့်သူ၏သားဧလာဇာနှင့်ဣသမာတို့ကိုခေါ်၍၊
သင်ပို့ထည်းသေမည်၊ လူအပေါင်းတို့အပေါ်
မှာ အမျက် တော် သင့် ရောက် မည်ကို စိုးရိမ်
သည်ဖြစ်၍၊ သင်တို့ ဦးထုပ်ကို မချွတ်နှင့်၊ အ
ဝတ်ကို မဆုတ်နှင့်၊ သင်တို့ညီအစ်ကို ဣသရေ
လအမျိုးသားရှိသမျှတို့သည်၊ထာဝရဘုရားပြု
တော်မူသောမီးလောင်ခြင်းကိုသာ ငိုကြွေးမြည်
တမ်းကြစေ၊- သင်တို့သေမည်ကို စိုးရိမ်သည်
ဖြစ်၍၊ ပရိသတ် စည်းဝေးရာ တံခါးဖြင့်ထိုမှ
ထွက်နှင့်၊ ထာဝရဘုရား၏ ဘိသိက်ဆီသည်
သင်တို့အပေါ်၌ရှိသည်ဟုဆိုသည်အတိုင်း၊သူ
တို့ပြုကြ၏။
၈ တ ဖန် အာ ရုန် အား ထာ ဝ ရ ဘု ရား က၊-
၉-၁၁ သင်နှင့်သင်၏သားတို့သည်၊သေသေးနှင့်ထန်း
လျက်ခြင်း ငါ့ငင်၊ ထန်ရှင်းသော အရာ၊ မသန့်
ရှင်းသော အရာ၊ စင်ကြယ် သော အရာ၊ မစင်
ကြယ် သော အရာတို့ကို ပိုင်းခြားတတ်ခြင်းငှါ
၎င်း၊ ထာဝရ ဘုရားသည် မောရှေ အားဖြင့် မှာ
ထားသမျှသောပညတ်တို့ကို၊ ဣသရေလအမျိုး
သားတို့၌ သွန်သင်တတ်ခြင်းငှါ၎င်း၊ ပရိသတ်
စည်းဝေးရာ တဲတော်သို့ဝင်သော အခါ၊ စပျစ်
ရည်ဇာခရှိသောယစ်မျိုးကိုမသောက်နှင့်၊သင်
တို့အမျိုး တစည်အဆက် စောင့်ရသော ပညတ်
ဖြစ်သတည်းဟု မိန့်တော်မူ၏။
၁၂ မောရှေသည်လည်း၊ အာရုန်နှင့်ကြွင်းသော
သား ဧလာဇာ၊ ဣသမာတို့ကို ခေါ်၍၊ သင်တို့
သည် ထာဝရဘုရားအား မီးဖြင့်ပြုသော ဘော
ဇဉ်ပူဇော်သက္ကာအကြွင်းကိုယူ၍၊ တဆေးမ
ပါဘဲ၊ယဇ်ပလ္လင်နားမှာ စားကြလော့၊ အလွန်
၁၃ သန့်ရှင်းပေ၏၊-ထိုအကြွင်းသည်ထာဝရဘုရား
အားမီးဖြင့်ပြုသောပူဇော်သက္ကာထဲက၊သင်နှင့်
သင်၏သားတို့ခံယိုက်သောအဖို့ဖြစ်၍၊သန့်ရှင်း
ရာဌာနတော်၌ စားရကြမည်၊ ထိုပညတ်တော်
၁၄ ကို ငါခံရပြီ၊- မြှောက်လှဲ သော ရင်ပတ်၊ မြှောက်ချီ
သောပခုံးကိုကား၊ သင်နှင့်တကွသင်၏သားသမီး
တို့သည်၊စင်ကြယ်သောအရပ်၌ စားရကြမည်၊
ဣသရေလ အမျိုး သား တို့သည် ပူဇော် သော
မိဿဟာယယဇ်ထဲက၊ သင်နှင့်သင်၏သားတို့
၁၅ သည်ခံယိုက်သောအဖို့ ဖြစ်သတည်း။- မီးဖြင့်
ပူဇော် သော ယဇ် ကောင် ဆီဥ နှင့် တကွ၊ မြှောက်
ချီသော ပခုံး၊ မြှောက်လှဲရာ ရင်ပတ်ကို၊ ထာဝရ

ဘုရားရှေ့တော်၌ မှီဝဲ၍၊ မှီဝဲသော ပူဇော်သ
သော ထို ပြုခြင်း ငှါ ဆောင် ခဲ့ ရကြ၍၊ ထာဝရ
ပညတ်တော်အတိုင်း။ သင်နှင့် သင်၏ သား တို့
သည်၊ ကိုယ်အမှီ ထုရကြမည်၊ ထိုသို့ထာဝရ
၁၆ ဘုရား မှာထားတော်မူပြီဟု ဆိုလေ၏။— ထိုနောက်
မောရှေသည်၊ အပြစ်ဖြေရာယဇ်ပြုသော ဆိတ်
ကိုကြိုးစား၍ ရှာတော်သည်းမတွေ့၊ မီးရှို့နှင့်
ပြီး ထိုကြောင့် ကြွင်းသော အာရုန်သားဧလာ
ဇာ၊ ဣသမာထိုကို အမျက်ထွက်လျက် ဆိုသည်
၁၇ ကား၊— အပြစ်ဖြေရာ ယဇ်သားသည် အလွန်
သန့်ရှင်း၏။ သင်တို့သည်၊ ပရိသတ်တို့ အပြစ်
ထိုခံ၍၊ ထာဝရဘုရားရှေ့တော်၌ သူတို့ အမှီ အ
ပြစ်ဖြေ ခြင်းကို ပြုစေခြင်းငှါ၊ ထိုယဇ်သား ကို
ပေးတော်မူသည်ဖြစ်၍၊ သန့်ရှင်းရာ ဌာနတော်
၁၈ ၌အဘယ်ကြောင့် မစားသနည်း။— ထိုယဇ်သား၊
အသွေးကိုသည်။ သန့်ရှင်းရာ ဌာနထဲသို့ မသွင်း
ပါ ထကား။ အကယ်၍ ငါမှာ ထား ခဲ့သည် အ
တိုင်း၊ ထိုယဇ်သားကို သန့်ရှင်းရာ ဌာနတော်၌
၁၉ စားရမည်ဟု ဆိုလျှင်၊— အာရုန်က၊ ယနေ့ သူတို့
သည်သူများတို့ အပြစ်ဖြေရာယဇ်၊ မီးရှို့ရာယဇ်
ကို ပူဇော်ပါပြီ၊ အကျွန်ုပ်၌ ထိုသို့ သော အမှု
ရောက်သည်တွင်၊ ယနေ့ အပြစ်ဖြေရာ ယဇ်သား
ကိုစားမိလျှင်၊ ထာဝရ ဘုရား နှစ်သက် တော်မူ
၂၀ မည်လောဟု မောရှေကိုပြောဆို၏။— မောရှေ
သည်ထိုစကားကိုကြား၍ ဝန်ခံလေ၏။

၁၁

၁ ထိုနောက် ထာဝရဘုရားသည်၊ မောရှေနှင့်အာ
၂ ရုန်ကိုမိန့်တော်မူ၍၊— သင်တို့သည်ဣသရေ
လအမျိုးသားတို့အားဆင့်ဆိုရမည်မှာ၊ မြေကြီး
၃ ပေါ် မှာရှိသော သား တကာ တို့ တွင်၊— ခွါကွဲ
ပြား၍စားမြုံ့ပြန်သောသားများကို သင်တို့သည်
၄ စားရသောအခွင့်ရှိ၏။— ထိုသော်လည်း၊ စားမြုံ့
ပြန်သောသား၊ ခွါကွဲပြားသောသားတို့တွင်မ
စားရသောသားဟူမူကား၊ ကုလားအုတ်သည်
စား မြုံ့ ပြန် သော်လည်း၊ ခွါ မကွဲပြား သော
၅ ကြောင့်၊ သင်တို့၌ မစင်ကြယ်။— ရှာဖန် သည်
စား မြုံ့ ပြန် သော် လည်း၊ ခွါ မ ကွဲ ပြား သော
၆ ကြောင့်၊ သင်တို့ ၌ မစင်ကြယ်။— အာရနတ
သည်စားမြုံ့ပြန်သော်လည်း၊ ခွါမကွဲပြားသော
၇ ကြောင့်၊ သင်တို့၌မစင်ကြယ်။— ဝက်သည် ခွါ
ကွဲပြားသော်လည်း၊ စားမြုံ့မပြန်သောကြောင့်၊
၈ သင်တို့၌မစင်ကြယ်။— ထိုသို့သောတိရစ္ဆာန်အ
သားကိုမစားရ၊ အသေကောင်ကို မထိုး မထိရ၊
မစင်ကြယ်ဟု၊ သင်တို့မှတ်ရကြမည်။
၉ ပင်လယ်ရေ၊ မြစ်ရေအစရှိသောရေ၌နေသော
တိရစ္ဆာန်တကာတို့တွင်၊ အတောင်နှင့်အကြေးရှိ
၁၀ သောတိရစ္ဆာန်ကိုသာစားရမည်။— အတောင်နှင့်
အကြေးမရှိ၊ ပင်လယ်ရေ၊ မြစ်ရေအစရှိသောရေ
၌ တွားသွားလျက်၊ အသက်ရှင်လျက်နေသော တိ
ရစ္ဆာန်ရှိသမျှတို့သည်၊ သင်တို့၌ ရွံရှာဖွယ်ဖြစ်
၁၁ ရကြမည်။— အသားအကြေးနှင့်မပြည့်စုံသော
၁၂ ရေတိရစ္ဆာန်အသားကို၊ သင်တို့သည် မစားရ၊
သူတို့အသေကောင်ကိုလည်း ရွံရှာရကြမည်။
၁၃ သင်တို့သည် ရွံရှာဖွယ်မှတ်၍ မစားရသော
ငှက်မျိုးဟူမူကား၊ ရွှေလင်းတ၊ ပင်လယ်လင်း
၁၄၊၁၅ တ၊ လင်းယုန်၊ စွန်၊ စွန်မျိုး။— ကျီးမျိုးရှိသ
၁၆ မျှ၊— ကုလားအုတ်ငှက်၊ ငှက်ဆိုး၊ ဥမျိုင်း၊ သိမ်း
၁၇၊၁၈ မျိုး။— ဇီးကွက်၊ ကြိုးကြာ၊ ဗျိုင်းတော်၊ ငှက်ကျား၊
၁၉ ဝံပို၊ ဝံလို၊— တောငှက်၊ ငှက်မျိုး၊ ငှက်ကုလား
၂၀ သင်း၊ နှီ၊ ဖ၊ လင်းနို့၊— အ တောင် ရှိလျက် ခြေလေး
ချောင်းနှင့်တွားတတ်သောတိရစ္ဆာန်မျိုးရှိသမျှ
၂၁ တို့သည်၊ သင်တို့၌ ရွံရှာဖွယ်ဖြစ်ရကြမည်။— ထို
ရာတွင်၊ အတောင်ရှိလျက် ခြေလေးချောင်းနှင့်
တွားတတ်၍၊ မြေပေါ်မှာ ခုန်စရာတို့အခြားခြေ
ထောက်ရှည်သော ခြေထောက်ရှိသောတိရစ္ဆာန်
၂၂ တို့တွင်၊— အာရာကျိုင်းမျိုး၊ သလောင်ကျိုင်းမျိုး၊
ခါရဂလကျိုင်းမျိုး၊ ခါဂပ်ကျိုင်းမျိုးကိုစားရမည်။—
၂၃ အတောင်ရှိ၍ ခြေလေး ချောင်းနှင့် တွားတတ်
သောအခြားတိရစ္ဆာန်တို့သည်၊ သင်တို့၌ရွံရှာ
၂၄ ဖွယ်ဖြစ်ရကြမည်။— ထိုတိရစ္ဆာန်အားဖြင့်သင်
တို့ စင်ကြယ် ခြင်း ပျက်တတ်၏၊ သူတို့ အသေ
ကောင်ကိုထိသောသူသည်၊ ညဦးတိုင်အောင်မ
၂၅ စင်ကြယ်။— ထို အသေ ကောင်ကို ဆောင်သွား
သောသူသည်မိမိအဝတ်ကိုလျှော်ရမည်၊ ညဦး
၂၆ တိုင်အောင်လည်း မစင်ကြယ်။— ခွါ မကွဲပြား
သောတိရစ္ဆာန်၊ စားမြုံ့မပြန်သော တိရစ္ဆာန်ရှိ
သမျှ တို့သည်၊ သင်တို့၌မစင်ကြယ်၊ သူတို့အ
သေ ကောင်ကို ထိသမျှသော သူတို့သည် မစင်
၂၇ ကြယ် ကြ။— ခွါ မရှိသော သား အမျိုးမျိုး တို့
သည်၊ သင်တို့၌ မစင်ကြယ်ကြ၊ သူတို့အသေ
ကောင်ကိုထိသောသူသည်၊ ညဦးတိုင်အောင်မ
၂၈ စင်ကြယ်။— သူတို့အသေကောင်ကိုဆောင်သွား
သောသူသည်၊မိမိအဝတ်ကိုလျှော်ရမည်၊ညဦး
တိုင်အောင်သည်းမစင်ကြယ်။

၂၉ မြေပေါ်မှာသွားတတ်သောတိရစ္ဆာန်တို့တွင်
၃၀ ငှေး၊ကြွက်၊ အိမ်မျှောင်မျိုး၊– တောက်တဲ့၊မြွေ
ပါ၊ သင်းခြော၊ဝှတတ်၊ဝှတ်သင် တို့သည်၊သင်
၃၁ တို့၌ မစင်ကြယ် ကြ၊– သူ တို့ အသေ ကောင်
ကို ထိသော သူသည်၊ ညဦး တိုင်အောင် မစင်
၃၂ ကြယ်၊– ထိုအသေကောင်သည် သစ်ခွက်၊ အ
ဝတ်၊ အရေ၊ အငွေ့ဖိတ် အစရှိသောအသုံးအ
ဆောင် တစုံတခုပေါ်သို့ ကျလျှင်၊ ထိုအသုံးအ
ဆောင်မစင်ကြယ်၊ ရေ၌နှစ်ရမည်၊ ညဦးတိုင်
အောင်လည်းမစင်ကြယ်၊ ထိုနောက်၊စင်ကြယ်
၃၃ လိမ့်မည်၊– မြေခွက် တစုံတခုပေါ်သို့ အသေ
ကောင်ကျလျှင်၊ ထိုမြေခွက် မစင်ကြယ် သော
၃၄ ကြောင့်၊ ခွဲရမည်၊– ထိုမြေခွက် ရေသည်၊ စား
စရာအစဲသားပေါ်သို့ကျလျှင်၊ အစဲသားမစင်
ကြယ်၊ ထိုမြေခွက်၌ သောက်စရာရေလည်းမ
၃၅ စင်ကြယ်၊– အကြင်အရာ အပေါ်၌ ထိုအသေ
ကောင်ကျ၏၊ ထို အရာသည်၊ မီး ဖိုဖြစ်စေ၊ မီး
ထောက်ဖြစ်စေ၊မစင်ကြယ်ရာသို့ရောက်၍၊သင်
တို့၌ မစင်ကြယ်သောကြောင့်၊ ဖြိုဖျက်ရမည်၊–
၃၆ သို့ရာတွင်၊ ရေစုဝေးရာစမ်းရေတွင်း၊တူးသော
ရေတွင်းသည်၊ မစင်ကြယ်ရာသို့မရောက်၊ အ
သေကောင်ကို ထိမိသော အရာသာ မစင်ကြယ်
၃၇ ရာသို့ရောက်၏၊– ကြဲစရာမျိုးစေ့အပေါ်၌၊ထိုအ
သေကောင်ကျလျှင်၊မျိုးစေ့သည်မစင်ကြယ်ရာ
၃၈ သို့မရောက်၊– ရေ၌စိမ်ထားပြီးသောမျိုးစေ့အ
ပေါ်၌၊ထိုအသေကောင်ကျလျှင်၊ မျိုးစေ့သည်
၃၉ သင်တို့၌မစင်ကြယ်၊– သင်တို့စားအပ်သောတိ
ရစ္ဆာန်သေလျှင်၊အသေကောင်ကိုထိမိသောသူ
၄၀ သည်၊ညဦးတိုင်အောင်မစင်ကြယ်၊–ထိုအသေ
ကောင်ကို စားသော သူသည်၊ မိမိ အဝတ် ကို
လျှော်ရမည်၊ ညဦးတိုင်အောင်မစင်ကြယ်၊ထို
အသေ ကောင်ကို ဆောင် သွားသော သူ သည်
လည်း၊ မိမိအဝတ်ကိုလျှော်ရမည်၊ ညဦးတိုင်
အောင်မစင်ကြယ်၊
၄၁ မြေပေါ်မှာသွားတတ်သောတိရစ္ဆာန်ရှိသမျှ
၄၂ တို့သည် ရွံရှာဖွယ်ဖြစ်၍၊သင်တို့မစားရ၊– မြေ
မရှိ၊ဝမ်းဖြင့်သွားသည်ဖြစ်စေ၊ ခြေလေးချောင်း
ဖြင့်သွားသည်ဖြစ်စေ၊ခြေထောက်ချောင်းမကများ
သော ခြေဖြင့် သွားသည် ဖြစ်စေ၊ မြေပေါ်မှာ
သွားတတ်သော တိရစ္ဆာန်တစုံတခုကိုမျှ မစား
၄၃ ရ၊ ရွံရှာဖွယ်ဖြစ်၏၊–သွားတတ်သောတိရစ္ဆာန်
တစုံတခုအားဖြင့် သင်တို့သည်၊ ကိုယ်ကိုရွံရှာ
ဖွယ်မဖြစ်စေရ၊ ထိုသို့အားဖြင့်ကိုယ်ညစ်ညူး
၄၄ အောင် ကိုယ်၌ မစင်ကြယ်သည်ကိုမပြုရ၊– ငါ
သည်သင်တို့ဘုရားသခင် ထာဝရဘုရားဖြစ်၏၊
ငါသည်သန့်ရှင်းသောကြောင့်၊ သင်တို့သည်၊
ကိုယ်ကိုကိုယ်သန့်ရှင်းစေ၍၊သန့်ရှင်းခြင်းရှိရ
ကြမည်၊ မြေပေါ်မှာသွားတတ်သောတိရစ္ဆာန်
တစုံတခုအားဖြင့်မျှ၊သင်တို့သည်ကိုယ်ကိုကိုယ်
၄၅ မညစ်ညူးစေရကြ၊–ငါသည်သင်တို့၏ဘုရားသ
ခင်ဖြစ်ခြင်းငှါ၊သင်တို့ကိုအဲဂုတ္တုပြည်မှကယ်
နှုတ်သော ထာဝရဘုရားဖြစ်၏၊ ငါသည် သန့်
ရှင်းသောကြောင့်၊သင်တို့သည်သန့်ရှင်းခြင်းရှိ
၄၆ ရကြမည်၊– ဤရှေ့ကား၊ စင်ကြယ်၊မစင်ကြယ်၊
၄၇ စားအပ်၊ မစားအပ်သောတိရစ္ဆာန်တို့ကို ပိုင်း
ခြားစေခြင်းငှါ၊ သား၊ ငှက်၊ ရေ၌ သွားတတ်သော အ
သက်ရှင်သောတိရစ္ဆာန်၊မြေပေါ်မှာသွားတတ်
သောတိရစ္ဆာန်ရှိသမျှနှင့်ဆိုင်သော တရားဖြစ်
သတည်းဟုမိန့်တော်မူ၏၊

၁၂

၁ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
သည် ဣသ ရေလ အမျိုးသားတို့အား ဆင့်ဆို
၂ ရမည်မှာ၊– မိန်းမသည် ပဋိသန္ဓေ ယူ၍၊ သား
ယောက်ျားကို ဖွားမြင်ပြီးလျှင်၊ ဥတုရောက်၍
ရှုနှစ်ရက် မစင်ကြယ်သကဲ့သို့၊ ခုနှစ်ရက်မစင်
၃ ကြယ်နေရမည်၊– အဋ္ဌမနေ့၌သားယောက်ျား
၄ အားအရေဖျားလှီးခြင်းကိုပြုရမည်၊–ထိုနောက်၊
အမိသည် စင်ကြယ် စေခြင်းနှင့် ဆိုင်သော အ
သွေးရှိ၍၊အရက်သုံးဆယ်သုံးရက်ပတ်လုံးနေရ
မည်၊ စင်ကြယ် စေခြင်း နေ့ရက် မစေ့ မှီ တိုင်
အောင်၊ သန့်ရှင်းသောအရာကိုမကိုင်ရ၊ သန့်
၅ ရှင်းရာဌာနတော်သို့မသွားရ၊–သမီးမိန်းမကိုဖွား
မြင်လျှင်၊ ဥတုရောက်သကဲ့သို့၊ တဆယ်လေး
ရက်ပတ်လုံးမစင်ကြယ်နေရမည်၊ စင်ကြယ်စေ
ခြင်းနှင့်ဆိုင်သောအသွေးရှိ၍၊ အရက်ခြောက်
၆ ဆယ် ခြောက်ရက် ပတ်လုံး နေရမည်၊– သား
ယောက်ျားဖြစ်စေ၊မိန်းမဖြစ်စေ၊စင်ကြယ်စေခြင်း
နေ့ရက် ကာလစေ့သောအခါ၊ မီးရှို့ရာယဇ်အို့
အခါမထည်သောသိုးသငယ်တကောင်၊အပြစ်
ဖြေရာယဇ်အို့ငှါ၊ချိုးငယ်တကောင်၊ သို့မဟုတ်၊
ခိုတကောင်ကို၊ပရိသတ်စည်းဝေးရာတဲတော်
တံခါးရှေ့၊ ယဇ်ပုရောဟိတ်ထံသို့ ဆောင်ခဲ့ရ
၇ မည်၊– ယဇ်ပုရောဟိတ်သည်၊ ထာဝရဘုရား
ရှေ့တော်၌ပူဇော်၍၊ ထိုမိန်းမအဘို့အပြစ်ဖြေခြင်း

ကိုပြုသဖြင့်၊ သူသည်အသွေးသွန်ခြင်းအပြစ်မှ
၈ သန့်ရှင်းရလိမ့်မည်။- သိုးသငယ်ကို မတတ်
နိုင်လျှင်၊ ချိုးနှစ်ကောင်ဖြစ်စေ၊ ငှက်ကလေးနှစ်
ကောင်ဖြစ်စေ၊မီးရှို့ရာယဇ်အိုတကောင်၊အပြစ်
ဖြေရာယဇ်အိုတကောင်ကိုဆောင်ခဲ့၍၊ ယဇ်ပ
ရောဟိတ်သည်၊ သူအမှို့အပြစ်ဖြေခြင်းကိုပြုသ
ဖြင့်၊သူသည်သန့်ရှင်းရလိမ့်မည်၊ ဤရွေကား၊
သားယောက်ျား၊သားမိန်းမကို ဖွားမြင်သောအမိ
နှင့်ဆိုင်သော တရားဖြစ်သတည်းဟု မိန့်တော်
မူ၏။

၁၃

၁ တဖန် ထာဝရဘုရားသည်၊ မောရှေနှင့်အာ
၂ ရုန်အားမိန့်တော်မူသည်ကား၊- လူသည်ကိုယ်
အရေ၌ အဖုးဖြစ်စေ၊ ယားနာဖြစ်စေ၊ နူကွက်
ဖြစ်စေ၊ နူသောထက္ခဏာ ပေါ်လျှင်၊ ထိုသူကို
ယဇ် ပရောဟိတ် အာရုန် ထံသို့ဖြစ်စေ၊ သူ၏
သား ယဇ်ပရောဟိတ် တစုံတယောက် ထံသို့
၃ ဖြစ်စေ၊ခေါ်ခဲ့ရမည်၊- ယဇ်ပရောဟိတ်သည်၊
ထိုသူ၏အရေ၌ပေါ်သောအနာကိုကြည့်ရှုသော
အခါ၊ အနာ၌ရှိသောအမွေးသည် ဖြူလျှင်၎င်း၊
အနာသည် အရေအောက်၌ စွဲတန်ရှိလျှင်၎င်း၊
နူနာမှန်၏၊ ယဇ်ပရောဟိတ်သည်ထိုသူကိုကြည့်
၄ ရှုပြီးမှ၊ မစင်ကြယ်ဟု စီရင်ရမည်၊- ကိုယ်အ
ရေ၌ ရှိသော နူကွက် သည် ဖြူလျှင်၎င်း၊ အရေ
အောက်၌စွဲဟန်မရှိ၊ အမွေးမဖြူလျှင်၎င်း၊ ယဇ်
ပရော ဟိတ်သည်၊ အနာ ရှိသော သူကို ခုနစ်
၅ ရက် ပတ်လုံး ချုပ်ထားရမည်။- သတ္တမနေ့၌
ယဇ် ပရောဟိတ်သည်ကြည့်ရှု၍၊ အနာသည်
အရေ၌ မတိုးမလျှောနေလျှင်၊ တဖန်ခုနစ်ရက်
၆ ပတ်လုံးချုပ်ထားရမည်။- တဖန်သတ္တမနေ့၌
ကြည့်ရှု၍၊ အနာသည်အရေ၌မတိုးပွား၊ ခပ်
မည်းမည်းဖြစ်လျှင်၊ထိုသူသည်စင်ကြယ်၏ဟု၊
ယဇ် ပရောဟိတ် စီရင်ရမည်၊ ယားနာ သက်
သက်ဖြစ်၏၊ မိမိအဝတ်ကိုလျှော်၍စင်ကြယ်ရ
၇ ၏၊-စင်ကြယ်စေခြင်းငှါ၊ယဇ်ပရောဟိတ်သည်
ကြည့်ရှု ပြီးမှ၊ နောက်တဖန် ယားနာ တိုး ပွား
ဖြန့် လျှင်၊ ယဇ် ပရောဟိတ် ကြည့်ရှု ပြန်၍၊-
ယားနာတိုးပွားသည်ကိုမြင်သောအခါ၊ ထိုသူ
သည်မစင်ကြယ်ဟုစီရင်ရမည်၊ နူနာဖြစ်၏။
၉ နူနာ စွဲသောသူကို၊ ယဇ် ပရောဟိတ် ထံသို့
၁၀ ခေါ်ခဲ့ရမည်။-ယဇ်ပရောဟိတ်ကြည့်ရှု၍၊အရေ
၌အသားအမွေးနှင့်တကွအမွေးသည်ဖြူလျှင်၎င်း၊
၁၁ အဖုး၌ အသားစိုရှိလျှင်၎င်း၊- ကိုယ် အရေ၌
ထောင်းသောနူနာဖြစ်၏၊ထိုသူသည်မစင်ကြယ်
ဟု၊ ယဇ်ပရောဟိတ်စီရင်၍ ချုပ်ထားသဖြင့်၊
၁၂ သူသည်မစင်ကြယ်ဘဲနေရမည်။-နူနာသည်အ
ရေ၌ တိုးပွား၍၊အနာစွဲသောသူတကိုယ်လုံး၊
ခေါင်းထိပ်မှသည်ခြေဖဝါးတိုင်အောင်၊ ယဇ်ပ
ရော ဟိတ် ကြည့်ရှု သေ ရာရာ၌ နူနာ နှံ့ပြား
၁၃ လျှင်၊- ထိုသို့တကိုယ်လုံးအနာနှံ့ပြားသောသူ
သည် စင်ကြယ်၏ဟု၊ ယဇ်ပရောဟိတ်ဆင်ခြင်
၍စီရင်ရမည်၊ တကိုယ်လုံးဖြူသည်ဖြစ်၍၊ စင်
၁၄ ကြယ်၏။- သို့မဟုတ်၊အသားစိုပေါ်လျှင်၊မစင်
၁၅ ကြယ်။- ယဇ်ပရောဟိတ်သည် အသားစိုကို
ကြည့်ရှု၍ထိုသူသည်မစင်ကြယ်ဟုစီရင်ရမည်၊
အသား စို သည် မစင် ကြယ်၊ နူ နာ အမှန် ဖြစ်
၁၆ ၏။- အသား စို သည် ခြားနား၍ ဖြူ ပြန်လျှင်၊
၁၇ ယဇ်ပရောဟိတ်ထံသို့တဖန်လာရမည်၊-ယဇ်
ပရောဟိတ်သည်ကြည့်ရှု၍၊ အနာ ဖြူပြန်သည်
ကိုမြင်လျှင်၊ ထိုအနာရှိသောသူ စင်ကြယ်၏ဟု၊
ယဇ် ပရော ဟိတ် စီရင် ရသဖြင့် သူ သည် စင်
ကြယ်၏။
၁၈ ကိုယ်အရေ၌ အနာမီးဖြစ်၍ပျောက်ပြီးမှ၊-
၁၉ အနာရွတ်၌ ဖြူသောအဖုးဖြစ်စေ၊ ဖြူနီသော အ
နူကွက်ဖြစ်စေ၊ ပေါ်ထသသည်ကို၊ ယဇ်ပရော
၂၀ ဟိတ်သည်ကြည့်ရှု၍၊-အရေအောက်၌စွဲတန်
ရှိ၍အမွေးဖြူလျှင်၊ ထိုသူသည် မစင်ကြယ်ဟု၊
ယဇ် ပရောဟိတ်စီရင်ရမည်၊ အနာမီးထဲက
၂၁ ထွက်သောနူနာဖြစ်၏၊-ယဇ်ပရောဟိတ်သည်
ကြည့်ရှုသောအခါ၊ ဖြူသောအမွေးမရှိ၊ အရေ
အောက်၌မစွဲ၊ ခပ်မည်းမည်းဖြစ်လျှင်၊ ယဇ်ပ
ရောဟိတ်သည်၊ထိုသူကိုခုနစ်ရက်ပတ်လုံးချုပ်
၂၂ ထားရမည်။- အရေ၌တိုးပွားလျှင်၊ထိုသူသည်
မစင် ကြယ်ဟု၊ ယဇ်ပရောဟိတ် စီရင်ရမည်၊
၂၃ နူနာဖြစ်၏၊-သို့မဟုတ်၊နူကွက်မရွေ့၊မတိုးပွား
လျှင်၊ အနာမီးရွတ်ဖြစ်၏၊ ထိုသူစင်ကြယ်၏
ဟုစီရင်ရမည်။
၂၄ အရေအသား၌မီးလောင်နာရှိ၍၊ မီးလောင်
၂၅ နာ အသားစို၌ ဖြူနီသောနူကွက်ရှိလျှင်၊- ယဇ်
ပရောဟိတ်သည်ကြည့်ရှုရမည်၊နူကွက်အမွေး
ဖြူ၍အရေအောက်၌ စွဲဟန်ရှိလျှင်၊ မီးလောင်
နာထဲက ထွက်သောနူနာဖြစ်၏၊ထိုသူသည်မစင်
ကြယ်ဟု၊ ယဇ်ပရောဟိတ်စီရင်ရမည်၊ နူနာ
မှန်၏၊-ယဇ်ပရောဟိတ်သည်ကြည့်ရှုသောအ

ဒါ၊နူကွက်၌ဖြူသောအမွေးမရှိ၊ အရေအောက်
၌မနက်၊မှိန်မှိန်မည်းမည်းဖြစ်လျှင်၊ယဇ်ပုရောဟိတ်
သည် ထိုသူကို ခုနစ်ရက် ပတ်လုံး ချုပ်ထားရ
၂၇ မည်။-သတ္တမနေ့၌ယဇ်ပုရောဟိတ်သည်ကြည့်
ရှု၍၊ နူကွက်သည်အရေ၌တိုးပွားလျှင်၊ထိုသူ
သည် မစင်ကြယ်ဟု၊ ယဇ်ပုရောဟိတ် စီရင်ရ
၂၈ မည်။နူနာဖြစ်၏။- ထိုမဟုတ်၊ နူကွက်မရွေ့၊အ
ရေ၌ မတိုး ပွား၊ ခပ် မည်းမည်း ဖြစ်လျှင်၊ မီး
လောင်နာအဖုဖြစ်၏။ ထိုသူသည်စင်ကြယ်၏
ဟု၊ ယဇ်ပုရောဟိတ် စီရင်ရမည်။ မီးလောင်
သောအနာရွတ်သက်သက်ဖြစ်၏။
၂၉ ယောကျ်ားမိန်းမသည်လည်း၊ ခေါင်း၌ဖြစ်စေ၊
၃၀ မေး၌ဖြစ်စေ၊အနာပေါက်၍၊- ယဇ်ပုရောဟိတ်
သည် ကြည့်ရှုသောအခါ၊ အရေအောက်၌ နက်
ထိန်နှင့်တကွအမွေးဝါဝါပါးပါးရှိလျှင်၊ ထိုသူ
မစင်ကြယ်ဟု၊ ယဇ်ပုရောဟိတ် စီရင်ရမည်။
ခေါင်း၌ဖြစ်စေ၊ မေး၌ဖြစ်စေ၊ ဖောက်နူနာဖြစ်
၃၁ ၏။-ထိုအနာကိုယဇ်ပုရောဟိတ်သည်ကြည့်ရှု
သောအခါ၊ အရေအောက်၌ နက်ဟန်မရှိ၊ နက်
သောအမွေးလည်းမရှိလျှင်၊ထိုအနာပေါက်သော
သူကို၊ယဇ်ပုရောဟိတ်သည်ခုနစ်ရက်ပတ်လုံး
၃၂ ချုပ်ထားရမည်။-သတ္တမနေ့ယဇ်ပုရောဟိတ်
သည်ကြည့်ရှုရ၍၊ အနာမတိုးပွား၊ ဝါသော
အမွေးမရှိ၊ အရေအောက်၌ နက်ဟန်သည်းမရှိ
၃၃ လျှင်၊- ထိုသူ၏အမွေးကိုရိတ်ရမည်။ အနာအ
မွေးကိုကား မရိတ်ရ၊ တဖန် ခုနစ်ရက် ပတ်
၃၄ လုံးချုပ်ထားရမည်။- သတ္တမနေ့၌ယဇ်ပုရော
ဟိတ်သည်ကြည့်ရှု၍၊အရေ၌အနာမတိုးပွား၊
အရေအောက်၌မနက်လျှင်၊ ထိုသူသည်စင်ကြယ်
၏ဟု၊ယဇ်ပုရောဟိတ်စီရင်ရမည်။ မိမိအဝတ်
၃၅ ကိုလျှော်၍ စင်ကြယ်ရ၏။- စင်ကြယ်စေပြီးမှ၊
၃၆ နောက်တဖန်ဖောက်နူနာတိုးပွားလျှင်၊- ယဇ်
ပုရောဟိတ်သည်ကြည့်ရှုပြန်၍၊ အနာတိုးပွား
သည်မှန်လျှင်၊ ယဇ်ပုရောဟိတ်သည်ဝါသော
၃၇ အမွေးကိုမရှာရ။ထိုသူသည်မစင်ကြယ်။- သို့မ
ဟုတ်၊ ဖောက်နူနာသည်ရပ်နေဟန်ရှိ၍၊ နက်
သောအမွေးပေါက်လျှင်၊ အနာပျောက်၍ထိုသူ
သည်စင်ကြယ်သောကြောင့်၊ ယဇ်ပုရောဟိတ်
က၊ထိုသူသည်စင်ကြယ်၏ဟုစီရင်ရမည်။
၃၈ ယောကျ်ားမိန်းမသည်လည်း၊ ကိုယ်အရေ၌ဖြူ
၃၉ သောနူကွက်ရှိ၍၊-ယဇ်ပုရောဟိတ်သည်ကြည့်
ရှုသောအခါ မှဲ့သောအဆင်းရှိလျှင်၊ အရေ၌
ပေါက်သောညှင်းဖြစ်၏၊ ထိုသူသည်စင်ကြယ်
၄၀ ၏။- ဆံပင် ကျွတ်သောသူသည်၊ ခေါင်းပြောင်
၄၁ သော်လည်းစင်ကြယ်၏။- နဖူးဆံ ကျွတ်သော
သူသည်၊ နဖူးပြောင်သော်လည်းစင်ကြယ်၏။-
၄၂ ပြောင်သောခေါင်း၌ဖြစ်စေ၊ ပြောင်သောနဖူး၌
ဖြစ်စေ၊ ဖြူနီသောအနာပေါက်လျှင်၊ ထိုပြောင်
၄၃ ရာ၌ ပေါက်သောနူနာဖြစ်၏။- ထိုအခါယဇ်ပု
ရောဟိတ်သည်ကြည့်ရှု၍၊ ကိုယ်အရေ၌နူနာ
ထင်သကဲ့သို့၊ ပြောင်ရာ၌ပေါက်သောအနာ၏
၄၄ အဖုးဖြူနီလျှင်၊- ထိုသူသည် မစင်ကြယ်၊ လူနူ
ဖြစ်၏၊ ခေါင်း၌ အနာပေါက်သောကြောင့်၊ အ
လျှင်း မစင်ကြယ်ဟု၊ ယဇ်ပုရောဟိတ် စီရင်ရ
၄၅ မည်။- နူနာစွဲသောသူသည်စုတ်သောအဝတ်
ကိုဝတ်ရမည်၊ခေါင်းကိုမဖုံး၊အထက်နှုတ်ခမ်း
ကိုဖုံးလျက်၊ မစင်ကြယ်၊ မစင်ကြယ်ဟု အော်
၄၆ ကြော်ရမည်။- ထိုအနာစွဲသည်ကာလပတ်လုံး၊
ထိုသူသည်ညစ်ညူး၏။ မစင်ကြယ်သည်ဖြစ်၍၊အ
ယောက်တည်း နေရမည်၊ သူနေရာသည် တပ်
ပြင်မှာရှိရမည်။
၄၇ ငှင်နည်း၊ နူနာစွဲသောအဝတ်သည်၊ မိတ်အ
၄၈ ဝတ်ဖြစ်စေ၊ သိုးမွေးအဝတ်ဖြစ်စေ၊- ရက်ကန်း
ပင်ဖြစ်စေ၊ ရက်ကန်းသားဖြစ်စေ၊သားရေဖြစ်
စေ၊ သားရေနှင့်လုပ်သော အသုံးအဆောင်ဖြစ်
၄၉ စေ၊- အဝတ်၌စွဲသောအနာ သည်ခပ်စိမ်းစိမ်း၊
ခပ် နီ နီ ရှိလျှင်၊ နူနာ ဖြစ်၏ ယဇ်ပုရောဟိတ်
၅၀ အားပြရမည်။- ယဇ်ပုရော ဟိတ်သည် အနာစွဲ
သောအဝတ်ကိုကြည့်ရှု၍၊ ခုနစ်ရက်ပတ်လုံး
၅၁ လုံချုပ်ထားရမည်။-သတ္တမနေ့၌တဖန်ကြည့်
ရှု၍၊ အဝတ်၌အနာတိုးပွားလျှင်၊ ရက်ကန်း
ပင်ဖြစ်စေ၊ ရက်ကန်းသားဖြစ်စေ၊ သားရေဖြစ်
စေ၊ သားရေနှင့်လုပ်သော အရာဖြစ်စေ၊ မစင်
၅၂ ကြယ်။စားတတ်သောနူနာစွဲပြီ။-ထိုအဝတ်ကို
မီး၌ရှို့ရမည်။ စားတတ်သောနူနာစွဲသော ရက်
ကန်းပင်၊ရက်ကန်းသား၊မိတ်အဝတ်၊သိုးမွေး
အဝတ်၊ သားရေ အသုံး အဆောင်ကို မီး၌ရှို့ရ
၅၃ မည်။- ယဇ်ပုရောဟိတ်သည်ကြည့်ရှု၍၊ရက်
ကန်းပင်၊ ရက်ကန်းသား အဝတ်၊ သားရေအ
၅၄ သုံးအဆောင်၌အနာမတိုးပွားလျှင်၊- အနာစွဲ
သောအရာကို ဆေးလျှော်စေမည်အကြောင်း၊
ယဇ်ပုရောဟိတ်စီရင်၍၊ တဖန်ခုနစ်ရက် ပတ်
၅၅ လုံး လုံချုပ်ထားရမည်။- ဆေးလျှော်ပြီးမှ၊
ယဇ်ပုရောဟိတ်သည် ကြည့်ရှုပြန်၍၊ အနာမ

ထိုးပွားသော်ထည်း၊ အဆင်းမပြောင်းနာလျှင်,
စင်ကြယ်ခြင်းမရှိရမည်၊အတွင်း၌ဖြစ်စေ၊ပြင်၌
၅၆ ဖြစ်စေ၊ ဇွေးမြေခြင်းမှိန်း— ဆေးလျှော်ပြီးမှ၊
ယဇ်ပုရောဟိတ်သည် ကြည့်ရှု၍ အနာသည်
ခပ်မည်းမည်းဖြစ်လျှင်၊ အဝတ်၊ သားရေ၊ ရက်
ကန်းပင်၊ ရက်ကန်း သားထဲက အနာကွက်ကို
၅၇ ဆုတ်ခွဲရမည်။-နောက်တဖန်ထိုရက်ကန်းပင်၊
ရက်ကန်း သား အဝတ်၊ သားရေ အသုံး အ
ဆောင်၌ အနာ ပေါ်ပြန်လျှင်၊ ထိုးပွား တတ်
သောအနာဖြစ်၏၊ ထိုသို့အနာစွဲသော ဥစ္စာကို
၅၈ မီး၌ရှို့ရမည်။— ရက်ကန်းပင်၊ရက်ကန်းသားအ
ဝတ်၊ သားရေအသုံးအဆောင်ဟူသမျှကိုဆေး
လျှော်၍၊ အနာပျောက်လျှင်၊ ဒုတိယ အကြိမ်
၅၉ ဆေးလျှော်၍၊ စင်ကြယ်ရမည်။—ချည်ထည်ကား၊ စင်
ကြယ်သည်၊ မစင်ကြယ်သည်ကို စီရင်စေခြင်း
ငှါ၊ နူနာစွဲသောပိတ်အဝတ်၊ သိုးမွေးအဝတ်၊
ရက်ကန်းပင်၊ ရက်ကန်းသား၊ သားရေအသုံး
အဆောင်ထို့နှင့်ဆိုင်သော တရားဖြစ်သတည်း၊
ထုမိန့်တော်မူ၏။

၁၄

၁း၂ တဖန်မောရှေအားထာဝရဘုရားက၊—နူနာ
စွဲသောသူသည် စင်ကြယ်စေသောနေ့၌ ကျင့်ရ
၃ သော တရားဟူမူကား၊— ထိုသူကို ယဇ်ပုရော
ဟိတ်ထံသို့ခေါ်ခဲ့ပြီးမှ၊ ယဇ်ပုရောဟိတ်သည်၊
တပ် ပြင် သို့ ထွက်၍ ကြည့်ရှု သော အခါ၊ နူ
နာ ပျောက် သည်မှန် လျှင်၊— စင်ကြယ် စေခြင်း
၄ ကိုခံရသောထိုသူအဖို့၊ အသက်ရှင်၍စင်ကြယ်
သော ငှက် နှစ်ကောင်၊ အာရဇ်သစ်သား၊ နီ
မောင်းသော ကြိုး၊ ဟုံထုပ်ပင်ညွန့်တို့ကို မှာ
၅ ထိုက်၍၊— မီးသောရေကိုထည့်သောမြေအိုးထဲ
၆ ၌ ငှက် တကောင်ကို သတ်စေ ပြီးမှ၊— အာရဇ်
သစ်သား၊ နီမောင်းသောကြိုး၊ဟုံထုပ်ပင်ညွန့်
နှင့်တကွ၊ အသက်ရှင်သောငှက်ကိုယူ၍၊ငှက်
၇ သွေး ရောပြီးသောရေ၌ နှစ်ပြီးလျှင်၊— နူနာစင်
ကြယ်စေရသော လူအပေါ်မှာ ခုနစ်ကြိမ်တိုင်
အောင်ဖြန်း၍၊ ထိုသူသည်စင်ကြယ်၏ဟုစီရင်
ရမည်၊ ထိုနောက်၊ အသက်ရှင်သော ငှက်ကို၊
ထင်းထင်း သော အရပ်၌ လွှတ်လိုက်ရမည်။—
၈ စင်ကြယ် စေရသော သူသည်၊ မိမိ အဝတ်ကို
လျှော်၍၊ မိမိဆံပင်ကိုအကုန်အစင် ရိတ်ပြီးမှ၊
စင်ကြယ် စေခြင်းငှါ ရေချိုးရမည်၊ ထိုနောက်၊
တပ် ထဲသို့ဝင်၍၊ မိမိ တဲ ပြင်၌ ခုနစ်ရက် နေရ
၉ မည်။— သတ္တမနေ့၌မိမိဆံပင်၊ မုဆိတ်၊ မျက်မှောင်
မွေးအစရှိသောကိုယ်မွေးရှိသမျှကို ရိတ်၍၊ မိမိ
အဝတ်ကိုလျှော်ပြီးမှ၊ရေချိုး၍စင်ကြယ်ရ၏။—
၁၀ အဋ္ဌမ နေ့၌ ထည်း၊ အပြစ်မရှိ၊ အခါ စေ့ည်
သော သိုး သငယ် အထီး နှစ်ကောင်၊ အမ တ
ကောင်ကိုငှင်၊ ဘောဇဉ်ပူဇော်သကာအဖို့၊ ဆီ
ရောသော ဂျုံမှုန့်သုံးဆယ်ပုံနှင့် ဆီတလော့ဂ
၁၁ ကိုငှင် ယူပြီးလျှင်၊— စင်ကြယ်စေသော ယဇ်ပု
ရောဟိတ်သည်၊ စင်ကြယ်စေအပ်သော လူကို၊
ပရိသတ်စည်းဝေးရာထဲတော်တံခါးနား၊ ထာ
ဝရ ဘုရားရှေ့တော်၌၊ ထိုပူဇော်သကာနှင့် တ
၁၂ ကွဆက်ရမည်။— သိုးသငယ်အထီး တကောင်
ကိုယူပြီးလျှင်၊ ဒုစရိုက်ဖြေရာအဖို့ပူဇော်၍၊
ထာဝရ ဘုရားရှေ့တော်၌ မြှောက်လှဲသော ပူဇော်သ
၁၃ ကာဘို့ဆီတလော့ဂနှင့်တကွ မြှောက်လှဲရမည်။— ထို
သိုးသငယ်ကို၊ အပြစ်ဖြေရာယဇ်ကောင်၊ မီးရှို့
ရာယဇ်ကောင်ကိုသတ်ရာအရပ်၊ သန့်ရှင်းရာ
ဌာန၌သတ်ရမည်၊ အကြောင်းမူကား အပြစ်
ဖြေရာ ယဇ်ကောင်ကို ယဇ်ပုရောဟိတ် ထုပိုင်
သကဲ့သို့၊ ဒုစရိုက်ဖြေရာ ယဇ်ကောင်ကို ထုပိုင်
၁၄ ၏၊ အလွန် သန့်ရှင်း ပေ၏။— ယဇ်ပုရောဟိတ်
သည်ဒုစရိုက်အပြစ်ဖြေရာယဇ်ကောင်အသွေး
ကိုယူ၍၊ စင်ကြယ်စေရသော သူ၏လက်ျာ နား
ရွက်ဖျားနှင့်၊ လက်ျာလက်မ၊ လက်ျာခြေမနှင့်
၁၅ ထည့်ရမည်၊-ဆီအချို့ကိုလည်းယူ၍၊မိမိလက်
၁၆ ဝဲလက်ဝါး၌ လောင်းပြီးလျှင်၊— ထိုဆီကို မိမိ
လက်ျာလက်ညှိုးနှင့်တို့ယူ၍၊ထာဝရဘုရားရှေ့
၁၇ တော်၌ခုနစ်ကြိမ်တိုင်အောင်ဖြန်းရမည်။— မိမိ
လက်၌ကြွင်းသောဆီကို၊ စင်ကြယ်စေရသော
သူ၏ လက်ျာ နားဖျားနှင့်၊ လက်ျာ လက် မ၊
လက်ျာ ခြေမနှင့်ရှိသော၊ ဒုစရိုက်ဖြေရာယဇ်
၁၈ ကောင် အသွေးအပေါ်မှာ ထည့်ရမည်။— မိမိ
လက်၌ ကြွင်းသေးသောဆီကို၊ စင်ကြယ်စေရ
သောသူ၏ခေါင်းပေါ်မှာလောင်း၍၊ ထိုသူအဖို့
အပြစ်ဖြေခြင်းကို၊ ထာဝရဘုရားရှေ့တော်၌ပြု
၁၉ ရမည်။-ထိုမှတပါး၊ စင်ကြယ်စေရသောသူအဖို့
အပြစ်ဖြေခြင်းငှါ၊ အပြစ်ဖြေရာယဇ်ကိုပူဇော်
၍၊ နောက်တဖန်မီးရှို့ရာယဇ်ကောင်ကို သတ်ရ
၂၀ မည်။— မီးရှို့ရာ ယဇ်ကောင် နှင့် ဘောဇဉ် ပူ
ဇော်သကာကို၊ယဇ်ပလ္လင် ပေါ်မှာ ပူဇော်သ
ဖြင့်၊ ထိုသူအဖို့ အပြစ်ဖြေခြင်းကိုပြု၍၊သူသည်
သန့်ရှင်းရ၏။

၂၁ ထိုသူ ထည်ဆင်းရဲ၍၊ ဤမျှသောတ်မတတ်
နိုင်လျှင်၊ ရှိသွဲ၍မိမိအပြစ်ဖြေခြင်းကိုပြုစရာတို့
ရုစရိုက်ဖြေရာ သိုးသငယ် တကောင်ကို
၎င်း၊ သောဧညီ ပုဇော်သကာဘို့ ဆီရောသော
ရုန်ညုတ် တပြဲမဲနှင့် ဆီတလောဆကို ၎င်း၊-
၂၂ တတ်နိုင်သမျှအတိုင်း၊ ခိုနှစ်ကောင်၊ သို့မဟုတ်၊
ငြိုးကလေးနှစ်ကောင်၊ အပြစ်ဖြေရာယဇ်ဘို့တ
ကောင်၊ မီး၌ရှိရာယဇ်ဘို့တကောင်ကို၎င်ယူ၍၊-
၂၃ မိမိ စင်ကြယ်ခြင်း အလို့ငှါ၊ ထာဝရ ဘုရားရှေ့
တော်တွင် ပရိသတ်စည်းဝေးရာ တဲတော် တံ
ခါးနား၊ ယဇ်ပရောဟိတ် ထံသို့ အဋ္ဌမနေ့၌
၂၄ ဆောင်ခဲ့ပြီးမှ၊-ယဇ်ပရောဟိတ်သည်၊ ဒုစရိုက်
အပြစ်ဖြေရာယဇ်သိုးသငယ်နှင့်ဆီတလောဆ
ကိုယူ၍၊ ထာဝရ ဘုရား ရှေ့တော်၌ ရှိသွဲ ရာပူ
၂၅ ဇော်သကာဘို့ ရှိသွဲရမည်။- ထိုသိုးသငယ်ကို
သတ်ပြီးလျှင်၊ အသွေးကိုယူ၍၊ စင်ကြယ်စေရ
သောသူ၏လက်ျာနားပျည်း၌၎င်၊ လက်ျာလက်မ၊
၂၆ လက်ျာခြေမ၌၎င် ထည့်ရမည်။- ဆီအချို့ ကို
ထဦး၊ မိမိလတ်ဝဲလက်ဝါး၌လောင်းပြီးလျှင်၊-
၂၇ ထိုဆီကိုမိမိလက်ျာလက်ညှိုးနှင့်ထာဝရဘုရား
ရှေ့တော်၌ခုနှစ်ကြိမ်တိုင်အောင် ဖြန်းရမည်။-
၂၈ မိမိလတ်၌ကြွင်းသောဆီကို၊ စင်ကြယ်စေရ
သောသူ၏လက်ျာနားပျည်း၌၎င်၊ လက်ျာလတ်
မ၊ လက်ျာခြေမ၌၎င်ရှိသောဒုစရိုက်ဖြေရာယဇ်
၂၉ ကောင်အသွေးအပေါ်မှာ ထည့်၍၊-မိမိ၌ကြွင်း
သေးသော ဆီကို ထိုသူ ခေါင်းပေါ်မှာ သောင်း
၍၊ သူ့အဖို့အပြစ်ဖြေခြင်းကို၊ ထာဝရဘုရားရှေ့
၃၀ တော်၌ ပြုရမည်။- ထိုသူသည် တတ်နိုင် သမျှ
အတိုင်း၊ ခို နှစ် ကောင်ဖြစ်စေ၊ ငြိုးက လေးနှစ်
၃၁ ကောင် ဖြစ် စေ၊- အ ပြစ် ဖြေ ရာ ယဇ် ဘို့ တ
ကောင်၊ သောဧညီပုဇော်သကာနှင့်တကွ၊ မီး၌ရှိ
ရာယဇ်ဘို့ တကောင်ကို ဆောင် ခဲ့၍၊ ယဇ်ပ
ရောဟိတ်သည်ပုဇော်လျက်၊ ထိုသူ့အဖို့အပြစ်
ဖြေခြင်းကို၊ ထာဝရဘုရားရှေ့တော်၌ပြုရမည်။-
၃၂ ဤရှေ့ကား၊ နူနာစွဲ၍ မိမိစင်ကြယ်စေခြင်းငှါ၊ မ
တတ်နိုင်အောင် ဆင်းရဲသောသူနှင့် ဆိုင်သော
တရားဖြစ်သတည်းဟုမိန့်တော်မူ၏။
၃၃ ထာဝရဘုရားသည်၊ မောရှေနှင့်အာရုန်အား
၃၄ မိန့်တော်မူသည်ကား၊- သင်တို့ပိုင်ထိုက်ရာ၊ ငါ
ပေးသောခါနာန်ပြည်သို့ သင်တို့ရောက် သော
အခါ၊ သင်တို့ နေရာ ထိုပြည်တွင် အိမ် တစုံတ
၃၅ ခု၌နူနာကိုငါစွဲစေလျှင်၎င်၊-အိမ်ရှင်သည်ယဇ်
ပရောဟိတ်ထံသို့သွား၍၊အကျွန်ုပ်အိမ်ကိုနူနာ
၃၆ စွဲထန်မှိုပါ၏ဟု ပြောဆိုလျှင်၎င်၊- ထိုအိမ်၌ရှိ
သမျှတို့သည်၊ မစင်ကြယ်ရာသို့ရောက်မည်ကို
မိုးမိုမ်၍၊ ယဇ်ပရောဟိတ်သည်နူနာကိုအကြည့်
အရှုမဝင်မှီ၊ ရှိသမျှကိုထုတ်စေခြင်းငှါ စီရင်ရ
မည်၊ ထိုနောက်၊ ယဇ်ပရော ဟိတ်သည် ထိုအိမ်
၃၇ ကိုအကြည့်အရှုဝင်၍၊- အနာကိုကြည့်ရှုသောအ
ခါ၊ ကျောက်ထရံရှိုင်ရာတို့၌ ခပ်မိမ်းမိမ်း။ ခပ်
နီနီ ဖြစ် ၍ ကျောက် ထရံထဲ၌ အ နာ စွဲ ထန် မှို
၃၈ လျှင်၊-အိမ်တံခါးပြင်သို့ထွက်၍၊ ထိုအိမ်ကိုခု
၃၉ နစ်ရက်ပတ်လုံး ပိတ်ထားရမည်။- သတ္တမနေ့
၌ယဇ်ပရောဟိတ်သည်၊ အကြည့်အရှုလာ၍၊
၄၀ ကျောက်ထရံ၌ အနာ ထိုးပွားလျှင်၊- အနာစွဲ
သောကျောက် တို့ကို နှုတ်ပယ်၍၊ မြို့ပြင်၊ မစင်
ကြယ်သောအရပ်၌ပြစ်ထားစေခြင်းငှါ၊ ယဇ်
၄၁ ပရောဟိတ်စီရင်၍၊- ထိုအိမ်ကို၊ အတွင်းပတ်
ထည်၌ ခြစ်စေရမည်၊ ခြစ်၍ ကျသော အမှုန့်
ကိုလည်းမြို့ပြင်၊ မစင်ကြယ်သောအရပ်၌ သွန်
၄၂ ပြစ်ရမည်၊-အရင်ကျောက်အစား၌အခြားသော
ကျောက်ကိုယူ၍၊ ထည့်ပြီးလျှင်၊အသစ်သော
၄၃ အင်္ဂတေ နှင့် သွပ်း ခံရမည်။- ထိုသို့ကျောက်တို့
နှုတ်ပယ်၍၊ အိမ်ကို ခြစ်ခြင်း၊ အသစ် သွပ်းခံ
၄၄ ခြင်းကိုပြုပြီးမှ၊တဖန်အနာစွဲပြန်လျှင်၊- ယဇ်ပ
ရောဟိတ်လည်း၊အကြည့်အရှုလာ၍၊ ထိုအိမ်
၌အနာတိုး ပွားသည်မှန်လျှင်၊ စားတတ်သော
နူနာ ဖြစ် ၏၊ ထိုအိမ် သည် မစင် ကြယ် သော
၄၅ ကြောင့်၊-ကျောက်၊ သစ်သား၊ အင်္ဂတေရှိသမျှ
ကိုဖြိုဖျက်၍၊ မြို့ပြင်၊ မစင်ကြယ်သောအရပ်သို့
၄၆ ထုတ်သွားရမည်။- ထိုမှ တပါး၊ ထိုအိမ် ကို ပိတ်
ထားသည်ကာလပတ်လုံး၊ အထဲသို့ဝင်မိသော
၄၇ သူသည်၊ ညဦး တိုင်အောင် မစင်ကြယ်။- ထို
အိမ်၌အိပ်သောသူ၊ စားသောက်သောသူသည်၊
မိမိအဝတ်ကိုလျှော်ရမည်။
၄၈ ယဇ်ပရော ဟိတ် သည်၊ အကြည့် အရှု လာ
သောအခါ၊ အိမ်ကိုအသစ် သွပ်းခံပြီးမှ၊ အနာမ
တိုးမပွားလျှင်၊ အနာပျောက် သောကြောင့်၊ ထို
၄၉ အိမ်သည်စင်ကြယ်၏ဟုစီရင်ရမည်။- ထိုအိမ်
ကိုစင်ကြယ်စေခြင်းငှါ၊ငှက်နှစ်ကောင်၊အာရဇ်
သစ်သား၊ နီမောင်းသောကြိုး၊ ထုထာပင်ညွန့်
၅၀ တို့ကိုယူ၍၊- စီးသောရေကိုထည့်သောမြေအိုး
၅၁ ထဲ၌ငှက်တကောင်ကိုသတ်ပြီးမှ၊-အာရဇ်သစ်
သား၊ ထုထာပင်ညွန့်၊ နီသောကြိုး၊ အသက်

ရှင်သောငှက်ကိုထွေ၍၊ ငှက်သွေး ရောသောရေ၌နှစ်ပြီးလျှင်၊ ထိုအိမ်ကိုခုနစ်ကြိမ်တိုင်အောင်
၅၂ ဖြန်းရမည်။-ထိုသို့ငှက်သွေးအစရှိသည်တို့နှင့်၊
၅၃ ထိုအိမ်ကိုစင်ကြယ်စေပြီးမှ၊-အသက်ရှင်သောငှက်ကိုမြို့ပြင်၊ ထင်းထင်းသော အရပ်၌ လွှတ်လိုက်၍၊ထိုအိမ်အဘို့အပြစ်ဖြေခြင်းကိုပြုလျှင်၊
၅၄-၅၇ စင်ကြယ်ခြင်းရှိလိမ့်မည်။- ဤပညတ်ကား၊စင်ကြယ်သည်၊မစင်ကြယ်သည်ကိုပိုင်းခြား၍သိစေခြင်းငှါ၊ ဖောက်နူနာ အစရှိသော၊ နူနာ အမျိုးမျိုး။ အဝတ်၌စွဲသောနူနာ၊ အိမ်၌စွဲသောနူနာ၊ အရှုး၊ ထားနာ၊ နူကွက် နှင့်ဆိုင်သောနူနာ တရားဖြစ်သတည်း။ထုမိန့်တော်မူ၏။

၁၅

၁ တဖန်မောရှေနှင့်အာရုန်အားထာဝရဘုရား
၂ က၊-သင်တို့သည်၊ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရမည်မှာ၊ ယိုနာ စွဲသော ယောကျ်ား
၃ သည်မစင်ကြယ်။-အစည်ယိုသည်ဖြစ်စေ၊တခါတ ထေ ရစ် သည် ဖြစ်စေ၊ ထို သူ သည် မစင်
၄ ကြယ်။- အိပ်သမျှ၊ ထိုင်သမျှသောအိပ်ရာထိုင်
၅-၈ ရာတို့သည်လည်းမစင်ကြယ်။-သူ၏အိပ်ရာကိုထိသောသူ၊ သူထိုင်ရာအပေါ်မှာ ထိုင်သောသူ၊ သူ၏ ကိုယ် ကို ထိသောသူ၊ သူ၏ တံထွေး ထိမိသောသူသည်၊မိမိအဝတ်ကိုလျှော်၍၊ ကိုယ်ကိုရေချိုးရမည်၊ ညဦးတိုင်အောင်မစင်ကြယ်ဖြစ်
၉ ၏။- ယိုနာစွဲသောသူ စီးသောကုန်းနှီးသည်းမ
၁၀ စင်ကြယ်။- သူအောက်၌ရှိသော အရာကို ထိသောသူသည်၊ ညဦး တိုင်အောင် မစင်ကြယ်၊ ထိုအရာတစုံတခုကို ဆောင်သောသူသည်၊ မိမိအဝတ်ကိုလျှော်၍၊ကိုယ်ကိုရေချိုးရမည်၊ ည
၁၁ ဦးတိုင်အောင်မစင်ကြယ်ဖြစ်၏၊- ယိုနာစွဲသောသူသည်၊လက်မဆေးဘဲ၊ သူတပါးကိုလက်နှင့်ထိလျှင်၊ ထိုသူသည် မိမိအဝတ်ကို လျှော်၍၊ ကိုယ်ကိုရေချိုးရမည်၊ ညဦးတိုင်အောင် မစင်
၁၂ ကြယ်ဖြစ်၏၊- ယိုနာစွဲသောသူဘ်သောမြေတန်ဆာကိုခွဲရမည်၊ သစ်သား တန် ဆာကို ရေနှင့်
၁၃ ဆေးရမည်၊- ယိုနာစွဲသောသူသည်အနာပျောက်သောအခါ၊ ပျောက်သော နေ့ကစ၍ ခုနစ်ရက်လွန်မှ၊ မိမိအဝတ်ကို လျှော်၍၊ စီးသော ရေနှင့်
၁၄ ကိုယ်ကို ချိုးသဖြင့် စင်ကြယ်ရ၏၊- အရှစ်နေ့၌ လည်း၊ ခို နှစ်ကောင် ဖြစ်စေ၊ ငြိုး ကလေး နှစ်ကောင် ဖြစ်စေ၊ တစုံစုကို၊ ထာဝရ ဘုရား ရှေ့တော်၌ ပရိသတ် စည်းဝေးရာ တံခါးနားသို့

ဆောင်ခဲ့၍၊ ယဇ်ပုရောဟိတ်အားပေးရမည်။-
၁၅ ယဇ်ပုရောဟိတ်သည် အပြစ်ဖြေရာ ယဇ်ဘို့တကောင်၊ မီးရှို့ရာယဇ်ဘို့တကောင်ကို ပူဇော်၍၊ ယိုနာ စွဲသောသူအဘို့ ထာဝရဘုရားရှေ့တော်၌
၁၆ အပြစ်ဖြေခြင်းကိုပြုရမည်။- ယောကျ်ားသည် သုတ်ရေထွက်လျှင်၊တကိုယ်လုံးရေချိုးရမည်၊
၁၇ ညဦးတိုင်အောင်မစင်ကြယ်ဖြစ်၏၊-သုတ်ရေထိသောအဝတ်၊သားရေရှိသမျှတို့ကိုရေနှင့်လျှော်ရမည်၊ ညဦးတိုင်အောင် မစင်ကြယ် ဖြစ်၏၊-
၁၈ ယောကျ်ားသည် မိန်းမနှင့် သံဝါသ ပြုလျှင်၊ နှစ်ယောက်စလုံးတို့သည်ရေချိုးရမည်၊ညဦးတိုင်အောင်မစင်ကြယ်ဖြစ်၏။
၁၉ မိန်းမသည်၊ဥတုရောက်လျှင်၊ ခုနစ်ရက်ပတ်လုံးဥတုမစင်ကြယ်ရာ၌နေရမည်၊ သူကိုထိသောသူ
၂၀ သည်၊ညဦးတိုင်အောင်မစင်ကြယ်ဖြစ်၏။- ဥတုမစင်ကြယ်လျက်အိပ်သမျှ၊ထိုင်သမျှတို့သည်မ
၂၁ စင်ကြယ်ဖြစ်၏။- သူ၏အိပ်ရာ၊ သူ၏ထိုင်ရာကို
၂၂ ထိသောသူသည်၊ မိမိအဝတ်ကိုလျှော်၍၊ကိုယ်ကိုရေချိုးရမည်၊ ညဦးတိုင်အောင်မစင်ကြယ်
၂၃ ဖြစ်၏။- သူ၏နေရာ ထိုင်ရာစွန်းလျှင်၊ ထိုနေရာ ထိုင်ရာကိုထိသောသူသည်၊ ညဦးတိုင်အောင်မ
၂၄ စင်ကြယ်ဖြစ်၏။-ဥတုရောက်သောမိန်းမနှင့်သံဝါသပြုသော သူသည်၊ ခုနစ်ရက် ပတ်လုံး မစင်ကြယ်၊ အိပ်ရာရှိသမျှလည်းမစင်ကြယ်ဖြစ်၏။-
၂၅ ဥတုမစင်ကြယ်ရာကာလ လွန်မှ၊ သွေးယိုနာမပျောက်လျှင်၊အနာမပျောက်မှီတိုင်အောင်၊ဥတုမစင်ကြယ်လျက် နေရသကဲ့သို့ မစင်ကြယ်ဖြစ်
၂၆ ၏။- အနာမပျောက်မှီတိုင်အောင်၊သူ၏အိပ်ရာသည်ဥတု မစင်ကြယ် သော အိပ်ရာ ကဲ့သို့ငှင်၊ ထိုင်ရာသည်လည်း ထိုကဲ့သို့ငှင် မစင်ကြယ်ဖြစ်
၂၇ ကြ၏။- ထိုအရာတို့ကို ထိသောသူသည်လည်း မစင်ကြယ်သောကြောင့်၊ မိမိအဝတ်ကို လျှော်၍၊ ကိုယ်ကိုရေချိုးရမည်၊ ညဦးတိုင်အောင်မ
၂၈ စင်ကြယ်ဖြစ်၏၊- ထိုမိန်းမသည်သွေးယိုနာပျောက်၍၊ ခုနစ်ရက်လွန်လျှင်၊ စင်ကြယ်လိမ့်မည်၊-
၂၉ အရှစ်နေ့၌ခိုနှစ်ကောင်ဖြစ်စေ၊ ငြိုးကလေးနှစ်ကောင်ဖြစ်စေ၊တစုံစုကို ပရိသတ်စည်းဝေးရာ ထဲတော် တံခါး နား၊ ယဇ်ပုရောဟိတ် ထံသို့
၃၀ ဆောင်ခဲ့ရမည်၊- ယဇ်ပုရောဟိတ်သည်အပြစ်ဖြေရာ ယဇ်ဘို့ တကောင်၊ မီးရှို့ရာ ယဇ်ဘို့ တကောင်ကိုပူဇော်၍၊ဥတုမစင်ကြယ်သောမိန်းမအဘို့၊ ထာဝရဘုရားရှေ့တော်၌ အပြစ်ဖြေခြင်းကို

၃၁ ပြုရမည်။-ထိုသို့ဣသရေလအမျိုးသားတို့သည်၊
မိမိတို့တွင်ရှိသောတဲတော်ကို ညစ်ညူးစေ၍၊
မိမိတို့မစင်ကြယ်ရာ၌မသေစေခြင်းငှါ၊သူတို့ကို
၃၂ မစင်ကြယ်ခြင်းနှင့် ကင်းစင်စေရမည်။- ဤရွေ့
ကား၊ ယိုနာစွဲသောသူ၊ သုတ်ရေထွက်၍ ညစ်
၃၃ ညူးသောသူ၊-ဥတုရောက်သောမိန်းမ၊ သံဝါသပြု
သောယောကျ်ားမိန်းမ၊မစင်ကြယ်သောမိန်းမနှင့်သံ
ဝါသပြုသော ယောကျ်ား ဆောင့်ရသော တရား
ဖြစ်သတည်းဟုမိန့်တော်မူ၏။

၁၆

၁ အာရုန်၏သားနှစ်ယောက်တို့သည်၊ထာဝရ
ဘုရားရှေ့တော်၌ ပူဇော်၍ သေသော နောက်၊
ထာဝရ ဘုရားသည် မောရှေအား မိန့်တော်မူ
၂ သည်ကား၊- သင်၏အစ်ကိုအာရုန်သည်၊ သေ
ဆေးနှင့် ကင်းလွတ်မည်အကြောင်း၊ သန့်ရှင်း
ရာ ဌာနတော်အတွင်း၊ ထိုက်တာ အပေါ်မှာ တင်
သောအဖုံးကို ကွယ်ကာသော ကုလားကာ အ
တွင်းသို့၊ အခါခပ်သိမ်းမဝင်စေခြင်းငှါ၊ ဆင့်
ဆိုလော့၊ ငါသည် သစ်တာ ဖုံး အပေါ်၊ မိုဃ်း
၃ တိမ်၌ထင်ရှားမည်။- အာရုန်သည်၊ သန့်ရှင်း
ရာ ဌာနတော်အထဲသို့ အဘယ်သို့ ဝင်ရမည်
နည်းဟူမူကား၊ အပြစ်ဖြေရာယဇ်ဘို့ အသက်
ပျိုသောနွားထီးတကောင်၊ မီးရှို့ရာယဇ်ဘို့သိုး
၄ ထီးတကောင်ပါရမည်။- သန့်ရှင်းသော ပိတ်
ချောအင်္ကျီ၊ ပိတ်ချောပေါင်းဘီကိုဝတ်၍၊ ပိတ်
ချောခါးပန်းကိုစည်းရမည်၊ ပိတ်ချောပေါင်းကို
ထည်း ဆောင်းရမည်၊ ထိုအဝတ် တန်ဆာတို့
သည် သန့်ရှင်းသော ကြောင့်၊ ကိုယ်ကိုရေချိုး
၅ ပြီးမှ၊ ဝတ်ဆင်ရမည်။- အပြစ်ဖြေရာ ယဇ်ဘို့
ဆိတ်သငယ်နှစ်ကောင်၊မီးရှို့ရာယဇ်ဘို့သိုးတ
ကောင်ကို၊ ဣသရေလ အမျိုးသားပရိသတ်
၆ ထက်မှခံယူရမည်။- အာရုန်သည်၊မိမိနှင့်ဆိုင်
သော၊ မိမိအပြစ်ဖြေရာ ယဇ်နွားကိုပူဇော်၍၊
မိမိအဘို့နှင့် မိမိအိမ်သူများအဘို့ အပြစ်ဖြေခြင်း
၇ ကိုပြုရမည်။- ဆိတ်နှစ်ကောင်ကိုထည်းယူ၍၊
ပရိသတ်စည်းဝေးရာတဲတော်တံခါးနား၊ ထာ
၈ ဝရဘုရား ရှေ့တော်၌ ထားရမည်။- အာရုန်
သည် ထိုဆိတ် နှစ်ကောင်ကို ထာဝရ ဘုရားအ
ဘို့စာရေးတံတတံ၊ လွှတ်လစ်လဟာအဘို့တတံ၊
၉ စာရေးတံ နှစ်တံချ၍၊- ထာဝရ ဘုရားအဘို့စာ
ရေးတံကျသောဆိတ်ကိုဆောင်ခဲ့၍၊ အပြစ်ဖြေ
၁၀ ရာယဇ်ဘို့ပူဇော်ရမည်။- လွှတ်ထပ်ထားသောအ
ဘို့စာ ရေးတံ ကျသော ဆိတ်ကို၊ အသက် ရှင်
လျက် ထာဝရဘုရားရှေ့တော်၌ထား၍၊ ထုံအ
ပေါ်မှာ အပြစ်ဖြေခြင်းကို ပြုပြီးလျှင်၊ တော၌
လွှတ်ထပ်ထားသည့်လွှတ်လိုက်ရမည်။
၁၁ အာရုန်သည်၊ မိမိနှင့်ဆိုင်သောအပြစ်ဖြေရာ
ယဇ်နွားကိုဆောင်ခဲ့ပြီးလျှင်၊ မိမိအဘို့နှင့်၊ မိမိ
အိမ်သူအိမ်သားများအဘို့ အပြစ်ဖြေခြင်းကိုပြု
၍၊ မိမိနှင့်ဆိုင်သောအပြစ်ဖြေရာ ယဇ်နွားကို
၁၂ သတ်ရမည်။- ထာဝရ ဘုရား ရှေ့တော် ယဇ်
ပလ္လင်မီးခဲနှင့်ပြည့်သောလင်ပန်းကိုကိုင်လျက်၊
ညက်စွာသော နံ့သာပေါင်း လက်အမှုန့်ကို၊ မိမိ
လက်၌အပြည့်ယူ၍၊ ကုလားကာ အတွင်းသို့
၁၃ ဆောင်သွားရမည်။-ထိုအခါလူသည်သေဘေး
နှင့်ကင်းလွတ်မည်အကြောင်း၊ နံ့သာပေါင်းအ
မိုးအငွေ့သည်၊ သက်သေခံချက် အပေါ်မှာရှိ
သောသစ်တာအဖုံးကို ဖုံးစေခြင်းငှါ၊ ထာဝရ
ဘုရား ရှေ့တော်၌ နံ့သာ ပေါင်းကို မီးပေါ်မှာ
၁၄ တင်ရမည်။- နွား အသွေး အချို့ ကိုထည်း ယူ
၍၊ အရှေ့ဘက်နားထက်၊ သစ်တာဖုံး အပေါ်၌
လက်ညှိုး နှင့် ဖြန်းရမည်။ သစ်တာဖုံး ရှေ့၌
ထည်း ခုနစ်ကြိမ်တိုင်အောင်လက်ညှိုးနှင့်ဖြန်း
ရမည်။
၁၅ ထိုနောက်၊လူများနှင့်ဆိုင်သောအပြစ်ဖြေရာ
ယဇ်ဆိတ်ကိုသတ်၍၊ အသွေးကို ကုလားကာ
အတွင်းသို့ ဆောင်ခဲ့ ပြီးလျှင်၊ နွားအသွေးကို
ဖြန်းသကဲ့သို့၊ သစ်တာဖုံး အပေါ်၌၎င်း၊ ရှေ့၌
၁၆ ၎င်းဖြန်းရမည်။- ဣသရေလ အမျိုးသားတို့၏မ
စင်ကြယ်သော အပြစ် ကြောင့်၎င်း၊ ဖြစ်မှား
သောအပြစ်အမျိုးမျိုး တို့ကြောင့်၎င်း၊ သန့်ရှင်း
ရာဌာနတော်အဘို့ အပြစ်ဖြေခြင်းကို ပြုရမည်။
ထိုသို့ ဣသရေလ အမျိုးသားတို့၏ မစင်ကြယ်
သောအပြစ်ထဲမှာနေရသော၊ ပရိသတ်စည်း
၁၇ ဝေးရာတဲတော်အဘို့ပြုရမည်။- သန့်ရှင်းရာဌာ
နတော်၌ အပြစ်ဖြေခြင်းကို ပြုအံ့သောငှါ၊ ဝင်
သောအခါ၊ မိမိအဘို့၊ မိမိအိမ်သူ အိမ်သားများ
အဘို့၊ ဣသရေလ ပရိသတ် အပေါင်း တို့ အဘို့
အပြစ် ဖြေခြင်းကိုပြု၍၊ မထွက်မှီ တိုင်အောင်၊
ပရိသတ်စည်းဝေးရာ တဲတော်ထဲမှာအဘယ်
၁၈ လူမျှမနေရ။- နောက်တဖန် ထာဝရ ဘုရားရှေ့
တော် ယဇ်ပလ္လင်သို့ ထွက်သွား၍၊ ထိုပလ္လင်
အဘို့ အပြစ်ဖြေခြင်းကို ပြုအံ့သောငှါ၊ နွားအ
သွေး၊ ဆိတ်အသွေးကိုယူ၍၊ ယဇ်ပလ္လင် ပတ်

၁၉ လည်ဦးချိုတို့၌ ထည့်ရမည်။- ယဇ်ပလ္လင် အ
ပေါ်၌လည်း၊ ထိုအသွေးကိုလက်ညှိုးနှင့်ခုနစ်
ကြိမ်တိုင်အောင်ဖြန်း၍၊ ဣသရေလအမျိုးသား
တို့၏ မစင်ကြယ်သော အပြစ်မှ စင်ကြယ်သန့်
ရှင်းစေရမည်။
၂၀ ထိုသို့သန့်ရှင်းရာဌာနတော်အမှု၊ ပရိသတ်
စည်းဝေးရာတဲတော်အမှု၊ ယဇ်ပလ္လင်အမှုအ
ပြစ် ဖြေခြင်းကို ပြီးစီးပြီးမှ၊ အသက် ရှင်သော
၂၁ ဆိတ်ကို ဆောင်ခဲ့ရမည်။- အာရုန်သည်၊ အ
သက် ရှင်သော ဆိတ်ခေါင်းပေါ်မှာ လက်နှစ်
ဖက်ကိုတင်လျက်၊ ဣသရေလအမျိုးသားတို့၏
ဒုစရိုက်မှစ၍၊ ပြစ်မှားသောအပြစ် အမျိုးမျိုးရှိ
သမျှတို့ကို ဖော်ပြ၍၊ ဆိတ်ခေါင်း ပေါ်မှာ တင်
ထားပြီးလျှင်၊ တော်လျော်သောလူတွင်တောသို့
၂၂ စေလွှတ်ရမည်။- သူတို့အပြစ် ရှိသမျှကို၊ လူမ
နေသောအရပ်သို့ ဆောင်သွားသော ထိုဆိတ်ကို
၂၃ တော၌လွှတ်လိုက်ရမည်။-အာရုန်သည်၊ ပရိသတ်
စည်းဝေးရာ တဲတော် ထဲသို့ ဝင်၍၊
သန့်ရှင်းရာဌာနတော်ထဲသို့ အရင်ဝင်သောအ
ခါ၊ဝတ်သောပိတ်ချောအဝတ်ကိုချွတ်၍၊ ထိုအ
၂၄ ရပ်၌ထားရမည်။- သန့်ရှင်းရာဌာန၌ ကိုယ်ကို
ရေချိုး၍၊မိမိအဝတ်ကိုဝတ်ပြီးမှ၊ ထွက်ခွာ
လာ၍၊မိမိမီးရှို့ရာယဇ်၊ လူများမီးရှို့ရာယဇ်ကို
ပူဇော်သဖြင့်၊မိမိအဖို့နှင့်လူများအဖို့အပြစ်ဖြေ
၂၅ ခြင်းကိုပြုရမည်။-အပြစ်ဖြေရာယဇ်ကောင်ဆီ
၂၆ ဥကို၊ ယဇ်ပလ္လင်ပေါ်မှာ မီးရှို့ရမည်။- လွှတ်
လိုက်သောဆိတ်ကို လွှတ်လိုက်သော သူ
သည်လည်း၊ မိမိအဝတ်ကို လျှော်၍၊ ကိုယ်ကို
ရေချိုးရမည်။ ထိုနောက်မှ၊ တပ်ထဲသို့ဝင်ရမည်။-
၂၇ သန့်ရှင်းရာဌာနတော်၌အပြစ်ဖြေခြင်းကိုပြုအံ့
သောငှါ ဆောင် သွင်းသော၊ အသွေး နှင့် ဆိုင်
သောအပြစ်ဖြေရာ ယဇ်နွားကို၎င်း၊ အပြစ်ဖြေ
ရာယဇ်ဆိတ်ကို၎င်း၊ တပ်ပြင်သို့ယူသွား၍၊ အ
၂၈ ရေ၊ အသား၊ ချေးနှင့်ကိုမီးရှို့ရမည်။- မီးရှို့သော
သူသည်လည်းမိမိအဝတ်ကိုလျှော်၍၊ ကိုယ်ကို
ရေချိုး ရမည်။ ထိုနောက် မှ တပ် ထဲ သို့ ဝင်ရ
မည်။
၂၉ သင်တို့ သည် အစဉ် စောင့်ရ သော ပညတ်
တော်ဟူမူကား၊ အမျိုးသားချင်းဖြစ်စေ၊ သင်တို့
တွင်တည်း နေသော၊ တပါးအမျိုးသား ဖြစ်စေ၊
သတ္တမလ၊ ဆယ်ရက်နေ့၌အလုပ်ကိုအလျှင်းမ
၃၀ လုပ်၊ ငြိမ်ငြိမ်စွာ ချွန်ချွတ် နေရကြမည်။- အ

ကြောင်းမူကား၊ သင်တို့သည်၊ ထာဝရ ဘုရား
ရှေ့တော်၌ အပြစ်ရှိသမျှတို့နှင့် ကင်းစင်မည်အ
ကြောင်း၊ ထိုနေ့ရက်၌ ယဇ်ပုရောဟိတ်သည်၊
သင်တို့ကို စင်ကြယ်စေခြင်းငှါ၊ အပြစ်ဖြေခြင်း
၃၁ ကိုပြုရမည်။-ထိုနေ့ရက်သည်၊ ထာဝရပညတ်
တော်အတိုင်း၊ သင်တို့ငြိမ်ဝပ်ရာဥပုသ်နေ့၊ ငြိမ်း
၃၂ ငြိမ်စွာကျင့်ရသောနေ့ဖြစ်သတည်း။- အစရော
၌ယဇ်ပုရောဟိတ်အမှုကိုဆောင်စေခြင်းငှါ၊အ
ရင် ယဇ်ပုရောဟိတ်ထံမှ၊ ဘိသိတ်နှင့် အ
ဘ၊ ယဇ်ပုရောဟိတ်အရာကို ခံသောသူသည်၊
ထိုအပြစ် ဖြေခြင်းကို ပြုရမည်။ ထိုယဇ်ပုရော
ဟိတ်သည်၊ သန့်ရှင်းသောပိတ်ချောအဝတ်ကို
၃၃ ဝတ်၍၊-သန့်ရှင်းရာဌာနတော်အမှု၊ပရိသတ်
စည်းဝေးရာ တဲတော်အမှု၊ ယဇ်ပလ္လင် အမှု၊
ယဇ်ပုရောဟိတ်များအမှု၊ပရိသတ်အပေါင်း
၃၄ တို့အမှု အပြစ် ဖြေ ခြင်းကို ပြုရ မည်။- ဤရွေ့
ထား၊ ဣသရေလအမျိုးသားတို့၏အပြစ်ရှိသမျှ
တို့ကြောင့်၊ တနှစ်တခါ အပြစ် ဖြေခြင်းကို ပြု
မည်အကြောင်း၊ သင်တို့သည် အစဉ် စောင့်ရ
သော ပညတ်တော် ဖြစ်သ တည်းဟု၊ မောရှေ
အား ထာဝရဘုရား မှာထားတော် မူသည့် အ
တိုင်း၊ အာရုန်ပြုလေ၏။

၇

၁ တဖန် မောရှေအား ထာဝရ ဘုရားက၊ သင်
၂ သည်အာရုန်နှင့် သူ၏သား၊ ဣသရေလအမျိုး
၃ သားတို့အား ဆင့်ဆိုရမည်မှာ၊- ဣသရေလအ
မျိုးသားတစုံတယောက်သည်၊ သိုး၊ဆိတ်၊နွား
ကို တပ်ထဲမှာ သတ်သည် ဖြစ်စေ၊ တပ်ပြင်မှာ
၄ သတ်သည်ဖြစ်စေ၊- ထာဝရဘုရား၏ တဲတော်
ရှေ့တွင် ထာဝရ ဘုရားအား ပူဇော်သကာ ပြု
ခြင်းငှါ၊ ပရိသတ်စည်းဝေးရာတဲတော်တံခါး
သို့မဆောင်ခဲ့လျှင်၊ ထိုသူသည် အသက် သတ်
သော အပြစ် ရှိသည်ဟု မှတ်ရ မည်။ အသက်
သတ် သော ထိုသူကို၊ သူ၏ အမျိုးမှ ပယ်ရှင်းရ
၅ မည်။- ဣသရေလအမျိုးသားတို့သည်၊ တော၌
ပူဇော်သောယဇ်တို့ကို၊ပရိသတ်စည်းဝေးရာ
တဲတော်တံခါး ရှေ့တွင်၊ ထာဝရဘုရားထံတော်
မှာ၊ယဇ်ပုရောဟိတ်ရှေ့သို့ ဆောင်ခဲ့၍၊ ထာဝ
ရဘုရားအားမိဿဟာယ ယဇ်ပူဇော်စေခြင်း
၆ ငှါ၊ ထိုသို့စီရင်ရသတည်း။- ယဇ်ပုရောဟိတ်
သည်၊ ထိုယဇ်ကောင် အသွေးကို၊ ပရိသတ်
စည်းဝေးရာတဲတော်တံခါး နားမှာရှိသော ထာဝ

ရဘုရား၏ထံမှာပဋ္ဌာန်ပေါ်မှာ ဖြန်း၍၊ ဆီဥကို
ထည့်၊ ထာဝရဘုရားအား မွှေးကြိုင်ရာ၍မီးရှို့
၇ ရမည်။- လူတို့သည်အထက်က မှားယွင်းသကဲ့
သို့၊ နောက်တစ်နက်ဆိုးတို့အား ယဇ်မပူဇော်
ရ။ဤပညတ်သည်၊ သူတို့အမျိုးအစဉ် အဆက်
၈ စောင့်ရသော ပညတ်တော် ဖြစ်သတည်း။- ဣ
သရေလ အမျိုးသားချင်း ဖြစ်စေ၊ သင်တို့တွင်
တည်းနေသော တပါးအမျိုးသားဖြစ်စေ၊ မီးရှို့
ရာယဇ် အစရှိသော၊ အခြားသော ယဇ်တစုံတ
၉ ခုကိုပူဇော်သောအခါ၊- ထာဝရဘုရားအားပူ
ဇော်သကာပြုခြင်းငှါ၊ ပရိသတ် စည်းဝေးရာ
တဲတော်တံခါးသို့ မဆောင်ခဲ့လျှင်၊ ထိုသူကို သူ၏အမျိုး
မှပယ်ရှင်းရမည်ဟု၊ သူတို့အားဆင့်ဆိုရမည်။
၁၀ ဣသရေလ အမျိုးသား မှစ၍၊ သင်တို့တွင်
တည်း နေသော တပါး အမျိုး သား တစုံ တ
ယောက်သည်၊ အသွေးတမျိုးမျိုးကိုစားလျှင်၊
ထိုသူကိုငါသည်မျက်နှာထား၍၊ သူ၏အမျိုးမှ
၁၁ ပယ်ရှင်းမည်။- အကြောင်းမူကား၊ ကိုယ်ခန္ဓာ
အသက် သည် အသွေး၌ တည်၏၊ သင်တို့ ပြု
သော အပြစ်ကို ပြေစေခြင်းငှါ၊ ထိုအသွေး ကို
သင်တို့အားယဇ်ပဋ္ဌာန်ပေါ်မှာငါပေးပြီ၊ လူအ
ပြစ်ကို ပြေသော အရာ ကား၊ အသွေး ဖြစ် သ
၁၂ တည်း။- ထိုကြောင့် သင်တို့၌ အဘယ်သူမျှအ
သွေးကိုမစားရ၊ သင်တို့တွင်တည်းနေသောတ
ပါးအမျိုးသားလည်း၊ အသွေးကိုမစားရဟု၊ ဣ
သရေလ အမျိုး သား တို့ အား ငါ အမိန့် တော်ရှိ
၁၃ ၏။- ဣသရေလအမျိုးသားမှစ၍၊ သင်တို့တွင်
တည်း နေ သော တပါး အ မျိုး သား တစုံ တ
ယောက်သည်၊ ခုဆိုးလုပ်၍ စားစရာတိရစ္ဆာန်၊
ငှက်ကိုဖမ်းမိလျှင်၊ အသွေးကို သွန်၍ မြေနှင့်
၁၄ ဖုံး ရမည်။- အ သွေး သည်၊ ခပ် သိမ်း သော
ကိုယ်ခန္ဓာအသက်ရှင်ရာအကြောင်းဖြစ်၏၊ ထို
ကြောင့်သင်တို့သည်၊တစုံတခုသောကိုယ်ခန္ဓာ
၏အသွေးကိုမစားရဟု၊ ဣသရေလအမျိုးသား
တို့အားငါအမိန့်တော်ရှိ၏၊ ခပ်သိမ်းသောကိုယ်
ခန္ဓာအသက်သည်အသွေး၌တည်သောကြောင့်၊
အသွေးကို စားသော သူမည် သည်ကား၊ ပယ်
၁၅ ရှင်းခြင်းကို ခံရမည်။- အလိုလို သေသော အ
ကောင်၊ သားရဲကိုက်၍ သေသောအကောင်၏
အသားကို စားသောကိုယ်အမျိုးသား၊ တပါး
အမျိုးသား မည်သည် ကား၊ စားလျှင်၊ မိမိအ
ဝတ်ကိုလျှော်၍၊ ကိုယ်ကိုရေချိုးရမည်၊ ညဦး

ထိုင်အောင် မစင်ကြယ် ဖြစ်၏၊ ထိုနောက်၊ စင်
၁၆ ကြယ်ခြင်းရှိ၏။- အဝတ်ကိုမလျှော်၊ ရေမချိုး
လျှင်၊ ကိုယ်အပြစ်ကိုကိုယ်ခံရမည်ဟု၊ ထာဝ
ရဘုရားသည်ပညတ်တော်မူ၏။

၁၈

၁ တဖန် မောရှေ အား၊ ထာဝရ ဘုရားက၊ ဣ
၂ သရေလ အမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊ ငါသည်သင်တို့၏ဘုရား၊ သခင်ထာဝရ
၃ ဘုရား ဖြစ်၏၊- သင်တို့ နေ ဘူးသော အဲဂုတ္တု
ပြည်၏ထုံးကျင့်ကိုငင်း၊ သင်တို့ကိုငါပို့ဆောင်အ
ပ်သော ခါနာန်ပြည်၏ အကျင့်ကိုငင်း၊ သင်တို့
သည်မကျင့်၊ ထုံ့ ထရား ထံးသို့ မလိုက်ရ
၄ ကြ။- ငါ့ စီရင်ချက် ရှိသည့် အတိုင်း ကျင့်၍၊ ငါ့
ပညတ် တရား ထံး သို့ လိုက် ခြင်း ငှါ စောင့်
ရှောက် ရကြမည်၊ ငါ သည် သင်တို့၏ ဘုရား
၅ သခင်ထာဝရ ဘုရားဖြစ်၏၊- ထိုကြောင့်ငါ့စီရင်
ထုံးဖွဲ့ချက်တို့ကိုစောင့်ရှောက်ရကြမည်၊ ထိုအ
ကျင့်ကိုကျင့်သောသူသည်၊ထိုအကျင့်အားဖြင့်
အသက် ရှင်လိမ့်မည်၊ ငါသည် ထာဝရဘုရား
ဖြစ်၏၊
၆ သင်တို့တွင် အဘယ်သူမျှ ကိုယ်ပေါက်ဖော်
တော်သော သူကိုချည်း၍၊ ထိမ်းမြားခြင်း မပြုရ၊ ငါ
၇ သည်ထာဝရဘုရားဖြစ်၏၊- သင်၏အစနှင့်သာ
ဆိုင်သော၊ သင်၏ အမိကိုမချည်းရ၊ ကိုယ်အမိ
၈ ဖြစ်သောကြောင့်၊သိမ်းပိုက်သမပြုရ။- ကိုယ်အဖ၏
မယားမည်သည်ကိုမချည်းရ၊အဖနှင့်သာဆိုင်
၉ ၏။- တအိမ်တည်း၌ မွေးဖွားသည်ဖြစ်စေ၊ အ
ခြားသောအရပ်၌မွေးဖွားသည်ဖြစ်စေ၊ သင်၏
၁၀ နှမကို မချည်းရ၊- ကိုယ်ရင်သွေးဖြစ်သော၊
၁၁ သင်၏မြေးကိုမချည်းရ၊- အမိဖွားသော်လည်း
၁၂ တစတည်းဖြစ်သောနှမကိုမချည်းရ။-သင့်အ
ဖ၏ ပေါက် ဖော်ရင်း ဖြစ်သော၊ အဖ၏ နှမကို
၁၃ ငင်း၊- သင့်အမိ၏ပေါက်ဖော်ရင်းဖြစ်သော၊အမိ
၁၄ ၏ညီအစ်မကိုငင်း၊-အဖ၏ညီအစ်ကိုနှင့်သာဆိုင်
သော၊မိကြီးမိထွေးဖြစ်သော၊ အဖ၏ညီအစ်ကို
၁၅ မယားကိုငင်း၊- သား၏မယား တည်းဟူသော
၁၆ ချွေးမကိုငင်း၊-ညီအစ်ကိုနှင့်သာ ဆိုင်သောညီ
၁၇ အစ်ကို၏မယားကိုငင်မချည်းရ။-ကိုယ်မယား
၏ပေါက် ဖော်ရင်းဖြစ်သော၊ မယား၏ သမီး၊ 
သား၏ မြေးကို မချည်းရ၊ မတရားသော အမှု
၁၈ ဖြစ်၏။- ကိုယ်မယားကိုနှောင့်ရှက်ခြင်းငှါ၊သူ
အသက်ရှင်စဉ်တွင်၊သူ၏ညီအစ်မကိုမထိမ်းရ၊

၁၉ ဥတုရောထိ၍ မစင်ကြယ်သော မိန်းမကိုလည်း
၂၀ မချဉ်းရ။- ကိုယ်ကို ညစ်ညူး စေလျက်၊ သူ့မ
၂၁ ယားကို မပြစ်မှားရ။- သင်၏သားသမီးတို့ကို၊
မောလုတ်ဘုရားအား မီးဖြင့်မပူဇော်ရ။ သင်၏
ဘုရားသခင်နာမတော်ကို မရှုတ်မချရ။ ငါသည်
၂၂ ယေဟောဝါဘုရားဖြစ်၏။- မိန်းမနှင့် ပေါင်းဖော်သကဲ့
သို့ယောကျ်ားချင်းမပေါင်းဖော်ရ။ ရွံရှာဖွယ်
၂၃ အမှုဖြစ်၏။- ကိုယ်ကို ကိုယ်ညစ်ညူးစေ၍၊ တိ
ရစ္ဆာန်နှင့်မပေါင်းဖော်ရ။ မိန်းမသည်လည်း၊ မိမိ
နှင့်တိရစ္ဆာန်၏ ပေါင်းဖော်ခြင်းကို မခံရ။ ရွံရှာ
ဖွယ်သောရောနှောခြင်းဖြစ်၏။
၂၄ ထိုသို့သော အမှုအားဖြင့် ကိုယ်ကို ကိုယ်မ
ညစ်ညူးစေရ။သင်တို့ရှေ့မှ ငါနှင်ထုတ်သောလူ
အမျိုးမျိုးတို့သည်၊ ထိုသို့သောအမှုကိုပြု၍ညစ်
၂၅ ညူးကြ၏။- သူတို့ပြည်သည်လည်းညစ်ညူး၏။
ညစ်ညူးသောအပြစ်ကြောင့်၊ငါဆုံးမ၍၊ထိုပြည်
၂၆-၂၇ သည်မိမိသားတို့ကိုအော့အန်လိမ့်မည်။-သင်
တို့မူကား၊ငါစီရင်ထုံးဖွဲ့ချက်တို့ကိုစောင့်ရှောက်
ရကြမည်။ထိုပြည်သည်၊သင်တို့ရှေ့၌ရှိသောလူ
အမျိုးမျိုးတို့ကို အော့အန်သကဲ့သို့၊ တဖန်ညစ်
ညူးခြင်းကိုခံ၍၊ သင်တို့ကိုမအော့အန်စေခြင်း
ငှါ၊ကိုယ်အမျိုးသားဖြစ်စေ၊ သင်တို့တွင်တည်း
နေသော တပါးအမျိုးသားဖြစ်စေ၊ ထိုသို့သော
ရွံရှာဖွယ်အမှုတို့ကိုမပြုရ၊ သင်တို့ရှေ့၌ရှိသော
ပြည်သားတို့သည်၊ ထိုသို့သော ရွံရှာဖွယ်အမှု
တို့ကို ပြုသော အားဖြင့်၊ သူတို့ပြည်သည်ညစ်
၂၉ ညူးခြင်းရှိ၏။-ထိုသို့သော ရွံရှာဖွယ်အမှုတို့ကို
ပြုသောသူမည်သည်ကား၊ သူ၏အမျိုးမှ ပယ်
၃၀ ရှင်းခြင်းကို ခံရမည်။- သို့ဖြစ်၍၊ သင်တို့ရှေ့၌
ပြုဘူးသော၊ ထိုရွံရှာဖွယ် ထုံးစံဓလေ့သို့ သင်
တို့သည်လိုက်၍၊ ကိုယ်ကိုကိုယ်မညစ်ညူးစေ
ခြင်းငှါ၊ ပညတ်တရားကို စောင့်ရှောက်ရကြ
မည်။ ငါသည် သင်တို့၏ဘုရားသခင် ယေဟောဝါ
ဘုရားဖြစ်၏ဟုမိန့်တော်မူ၏။

၁၉

၁ တဖန် မောရှေအား ယေဟောဝါ ဘုရားက၊ သင်
၂ သည်ဣသရေလ အမျိုးသားပရိသတ်အပေါင်း
တို့အားဆင့်ဆိုရမည်မှာ၊သင်တို့၏ဘုရားသခင်
ငါယေဟောဝါဘုရားသည် သန့်ရှင်းသောကြောင့်၊
၃ သင်တို့ သည်။ သန့်ရှင်းခြင်း ရှိကြလော့။- လူ
တိုင်းကိုယ်မိဘကို ရိုသေရမည်။ ဥပုသ်နေ့တို့
ကိုလည်းစောင့်ရမည်။ ငါသည်သင်တို့၏ဘုရား
၄ သခင် ယေဟောဝါဘုရားဖြစ်၏။- ရုပ်တုဆင်းတုကို
လည်းမချဉ်း မကပ်ရ။ ကိုယ်အဖို့ သွန်းသော
ဘုရားတို့ကိုမလုပ်ရ။ ငါသည်သင်တို့၏ ဘုရား
၅ သခင်ယေဟောဝါဘုရားဖြစ်၏။- မိဿဟာယယဇ်
ကို၊ ယေဟောဝါဘုရားအားပူဇော်လျှင်၊ မိတ်တော်
၆ နှင့်တွေ့အောင် ပူဇော်ရမည်။- ပူဇော်သောနေ့
နှင့် နက်ဖန်နေ့၌ စားရမည်။ သုံးရက် နေ့တိုင်
၇ အောင်ကျန်ကြွင်းလျှင်မီး၌ရှို့ရမည်။- သုံးရက်
နေ့၌အနည်းငယ်ကိုမျှစားလျှင်၊ ရွံရှာဖွယ်ဖြစ်
၈ ၏။ မိတ်တော်နှင့်မတွေ့။- စားသော သူသည်၊
ယေဟောဝါဘုရား၏ သန့်ရှင်းသောအရာကို ရှုတ်ချ
သောကြောင့်၊ မိမိအပြစ်ကို ခံရမည်။ ထိုသူကို
၉ သူ၏အမျိုးမှ ပယ်ရှင်းရမည်။- ကိုယ်မြေ၌ဖြစ်
သောစပါးကိုရိတ်သောအခါ၊ လယ်ထောင့်တို့
ကို အကုန် အစင် မရိတ်ရ။ သိမ်းရာတွင် ကျန်
ကြွင်းသော အရာကို၊ ပြန်၍ မကောက်မသိမ်း
၁၀ ရ။-ကိုယ်စပျစ်သီးကိုလည်းအကုန်အစင်မသိမ်း
ရ။ ကျန်ကြွင်းသော အသီးကိုပြန်၍ မဆွတ်ရ။
ထိုအသီးကို ဆင်းရဲ သောသူ၊ ဧည့်သည် အာ
ဂန္တုအဖို့ ချန်ထွင်း ရမည်။ ငါသည် သင်တို့၏
ဘုရားသခင်ယေဟောဝါဘုရားဖြစ်၏။
၁၁ သူ့ဥစ္စာကိုမခိုးရ။ သူတပါးကိုမလှည့်စားရ။
တယောက်ကို တယောက် မုသာစကား မပြော
၁၂ ရ။- ငါ့နာမကို တိုင်တည်၍၊ မဟုတ် မမှန် အဲ
ကျိန်ဆိုခြင်းကိုမပြုရ။ သင်၏ဘုရားသခင် နာမ
ကိုမရှုတ်မချရ။ ငါသည် ယေဟောဝါဘုရားဖြစ်၏။-
၁၃ ကိုယ်နှင့်စပ်ဆိုင်သော သူ၏ဥစ္စာကို၊ မတရား
သဖြင့်မသိမ်းရ။ အနိုင်အထက်ပြု၍မယူရ။ သူ
ငှါးခံထိုက်သောအခကို၊တညည့်လုံးနံနက်တိုင်
၁၄ အောင်မထားရ။- နားပင်းသောသူကို မကျိန်ဆဲ
ရ။ မျက်စိမမြင်သောသူရှေ့မှာ ထိမိ၍ လဲစရာကို
မထားရ။ သင်၏ ဘုရား သခင်ကို ကြောက် ရွံ့ရ
၁၅ မည်။ ငါသည်ယေဟောဝါဘုရားဖြစ်၏။- တရားတွေ့
သည်အမှုမှာ မတရားသဖြင့် မစီရင်ရ။ ဆင်းရဲ
သောသူအက်၌ မငဲ့ကွက်၊ ကြီးသောသူ၏ မျက်
နှာကို မထောက်ဘဲ၊ ကိုယ်အမျိုးသားချင်း ကို
၁၆ တရား သ ဖြင့် စီရင် ရမည်။- သူအသရေ ဖျက်
သောသိတင်းကိုကြားပြောခြင်းငှါ၊ကိုယ်အမျိုး
သားချင်း တို့တွင် မလှည့်လည်ရ။ ကိုယ်နှင့်စပ်
ဆိုင်သော သူကို သေစေခြင်းငှါ မကြံစည်ရ။ ငါ
၁၇ သည်ယေဟောဝါ ဘုရားဖြစ်၏။- သင်၏ညီအစ်ကို
ကို၊ မိတ်အစုအခံမရှိရ။ ကိုယ်နှင့်စပ်ဆိုင်သော

သူ့၌ရှိသော အပြစ်ကိုတတ်တိုင်းမရှိစေဘဲ၊ သု
၁၈ ကိုအမှန်ဆုံးမရမည်။-ထင်အမျိုးသားချင်းသည်၊
သင့်ကိုပြစ်မှားလျှင်၊ ကိုယ်တိုင်အပြစ်ပြန်၍မ
တုံ့ရ၊အငြိုးမထားရ၊ ကိုယ်နှင့်စပ်ဆိုင်သောသူ
ကို၊ ကိုယ်နှင့်အမျှချစ်ရမည်၊ ငါသည်ထာဝရ
ဘုရားဖြစ်၏၊
၁၉ ငါ၏ပညတ်တရားကို၊ သင်တို့သည်စောင့်ရ
ကြမည်၊အမျိုးခြားသောတိရိစ္ဆာန်အထီးအမ
ထိုကိုမရှက်မတင်စေရ၊ ခြားနားသောမျိုးစေ့
ကို ရောနှော၍ လယ်၌မကြဲရ၊ ဝါနှင့် သိုးမွေး
၂၀ ရော၍ ရက် သော အဝတ်ကို မဝတ်ရ။- ထိမ်း
မြားဆောင်နှင်းလျက်၊ မရွေးမလွှတ်သေးသော
ကျွန်မိမ္မနှင့် သင့်နေသော သူသည်၊ ရိုက်နှက်
ခြင်းကိုခံရမည်၊ ထိုမိမ္မသည် သုကျွန်ဖြစ်သေး
၂၁ ကြောင့်၊ သေပြစ်နှင့်လွှတ်ရမည်။- ယောကျ်ား
သည်လည်း၊ ဒုစရိုက်ဖြေရာယဇ်ဘို့သိုးထီးတ
ကောင်ကို၊ ပရိသတ်စည်းဝေးရာ ထဲတော်တံ
ခါးနား၊ ထာဝရဘုရား ထံတော်သို့ ဆောင်ခဲ့ရ
၂၂ မည်။- ထိုယောကျ်ား ပြုမိသော အပြစ်ကို ဖြေ
ခြင်းငှါ၊ဒုစရိုက်ဖြေရာယဇ်သိုးကို၊ ယဇ်ပရော
ဟိတ်သည်၊ ထာဝရဘုရားရှေ့မှာပူဇော်ရမည်၊
ထိုယောကျ်ားသည်၊အပြစ်လွှတ်ခြင်းသို့ရောက်
၂၃ ထိမ့်မည်။- သင်တို့သည် ငါပေးသော ပြည်သို့
ရောက်၍၊ စားအပ်သော အပင်အမျိုးမျိုးကို
စိုက် ပြီးမှ၊ သုံးနှစ် ပတ်လုံး သီး သော အသီး
ကို၊ အရေဖျားလှီးခြင်းကိုမခံသောအသီးဟူ၍
၂၄ မှတ်ရမည်။ ထိုအသီးကို မစားရ။- စတုတ္ထနှစ်
တွင်သီးသော အသီးရှိသမျှ သည်သန့် ရှင်း၍၊
ထာဝရဘုရား၏ကျေးဇူးတော်ကို ချီးမွမ်းဖို့ရာ
၂၅ ဖြစ်ရမည်။- ပဉ္စမနှစ်တွင် သီးသောအသီးကို
စားရမည်၊ထိုသို့ပြုလျှင်၊ အပင်တို့သည်သာ၍
သီးကြလိမ့်မည်၊ငါသည်သင်တို့၏ဘုရားသခင်
၂၆ ထာဝရဘုရားဖြစ်၏။- အသွေးပါသော အသေ
ကောင်ကိုမစားရ၊ မကောင်းသော အတတ်ကိုမ
၂၇ ပြုစုရ၊ကာလဗေဒင်ကိုမကြည့်ရ။- ဦးကွောင်း
အနားပတ်လည်၌ဆံပင်ကိုဝန်း၍မရိတ်ရ၊ပါး
၂၈ မုတ်းကိုလည်းမရိတ်ရ။- သေသောသူအတွက်၊
ကိုယ်အသားကို မစုတ်မရှရ၊ သံပုမထိုးရ၊ ငါ
၂၉ သည်ထာဝရဘုရားဖြစ်၏။- ကိုယ်သမီးကိုပြည့်
တန်ဆာဖြစ်စေခြင်းငှါမရှုတ်မချရ၊ သို့ပြုလျှင်၊
တပြည်လုံးသည် မတရားသော မေစုန်သို့လိုက်
၃၀ ၍၊ အဓမ္မအမှုနှင့်ပြည့်လိမ့်မည်။- ငါ့ဥပုသ်နေ့
ထို့ကို စောင့်၍၊ သန့်ရှင်းရာ ဌာနတော်ကို ရို
သေရ မည်၊ ငါသည် ထာဝရ ဘုရား ဖြစ် ၏။-
၃၁ ကိုယ်ကို ကိုယ်ညစ်ညူးစေခြင်းငှါ၊ နတ်ဝင်သူ
ကိုမမှီဝဲရ၊ စုန်းလုပ် သူကို လည်း မရှာဖွေရ၊
ငါသည် သင်တို့၏ ဘုရား သခင် ထာဝရဘုရား
၃၂ ဖြစ်၏။- ဆံပင်ဖြူသောသူရှေ့မှာထရမည်၊ အ
သက် ကြီးသောသူ၏ မျက်နှာကို ရိုသေရမည်၊
သင်၏ ဘုရား သခင် ကို ကြောက်ရွံ့ ရမည်၊ ငါ
၃၃ သည်ထာဝရဘုရားဖြစ်၏။-သင်၏ပြည်၌တည်း
၃၄ နေသောဧည့်သည်ကိုမညှဉ်းဆဲရ၊-သင်နှင့်အ
တူနေသော ဧည့်သည်ကို၊ကိုယ်အမျိုးသားချင်း
ကဲ့သို့မှတ်ရမည်၊ကိုယ်နှင့်အမျှချစ်ရမည်၊ထင်
တို့သည် အဲဂုတ္တုပြည်၌ ဧည့်သည် ဖြစ်ကြဘူး
ပြီ၊ ငါသည်၊ သင်တို့၏ ဘုရားသခင် ထာဝရ
၃၅ ဘုရားဖြစ်၏။- တိုင်းထွာသောအမှု၊ ချိန်ထွယ်
သောအမှု၊ ခြင်တွက်သော အမှု၌ မတရားသောမ
၃၆ ပြုရ။- မှန်သောချိန်ခွင်၊ မှန်သော အလေး၊ မှန်
သောဧဖါ၊ မှန်သော ဟိန်တို့ကိုသုံးရမည်၊ ငါ
သည်၊ သင်တို့ကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်
သော၊ သင်တို့၏ဘုရားသခင် ထာဝရဘုရားဖြစ်
၃၇ ၏။- သင်တို့သည်ငါ၏ပညတ်တရားဖွဲ့ချက်အလုံးစုံတို့
ကို စောင့် ရှောက် ရကြမည်၊ ငါသည် ထာဝရ
ဘုရားဖြစ်သည်ဟုမိန့်တော်မူ၏၊

## ၂၀

၁ တဖန် မောရှေအား ထာဝရဘုရားက၊ အင်
သည် ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
၂ မည်မှာ၊- ဣသရေလအမျိုးသားဖြစ်စေ၊ ဣသ
ရေလအမျိုး၌တည်းနေသော တပါးအမျိုးသား
ဖြစ်စေ၊ မိမိသားကိုမောလုတ်ဘုရားအားဆက်
ကပ်သောသူသည်၊ အသေသတ်ခြင်းကိုအမှန်
ခံရမည်၊ ပြည်သား တို့ လည်း ခဲနှင့် ပြစ်ရကြ
၃ မည်။- သန့်ရှင်းရာ ဌာနတော်ကို ညစ်ညူးစေ
လျက်၊ သန့်ရှင်း သော နာမတော်ကို ရှုတ်ချ
လျက်၊ မိမိသားကိုမောလုတ်ဘုရားအားဆက်
ကပ်သောသူကို၊ ငါသည်မျက်နှာထား၍၊သူ၏
၄ အမျိုးမှ ပယ်ရှင်းမည်။- မိမိသားကိုမောလုတ်
ဘုရားအား ဆက်ကပ်သောသူကို၊ ပြည်သား
၅ တို့သည်အမှုမထား၊မသတ်ဘဲနေလျှင်၊- ထိုသို့
နေသောသူနှင့်သူ၏ အိမ်သူအိမ်သားတို့ကို၊ငါ
သည်မျက်နှာထား၍၊ထိုသူကိုရင်၊ သူနှင့်အတူ
မောလုတ်ဘုရားထံ၌ မှားယွင်းသောသူတို့ရှိ
၆ သူတို့ အမျိုးမှပယ်ရှင်းမည်။- ထစ်းရွေ့၍ နတ်

ဝင်သူ၊ စုန်းထုံးသူနောက်သို့လိုက်လျှက်၊ မှား
ယွင်းသောသူကို၊ ငါသည်မျက်နှာထား၍၊ သူ၏
၇ အမျိုးမှ ပယ်ရှင်းမည်။– သင်တို့၏ ဘုရား၊ သ
ခင်၊ ငါ ထာဝရ ဘုရားသည် သန့်ရှင်းသော
ကြောင့်၊ သင်တို့သည် ကိုယ်ကိုသန့်ရှင်းစေ၍၊
၈ သန့်ရှင်းခြင်းရှိကြလော့။– ငါ့နည်းနိယာမတို့
ကို ကျင့်ဆောင်ရကြမည်။ ငါသည် သင်တို့ကို
သန့်ရှင်းစေသောထာဝရဘုရားဖြစ်၏။
၉ မိဘကို ကျိန်ဆဲသော သူတိုင်း၊ အသေ သတ်
ခြင်းကို အမှန်ခံရမည်။ မိဘကို ကျိန်ဆဲ သော
၁၀ ကြောင့်၊ သေထိုက်သောအပြစ်ရှိ၏။–သူမယား
ကိုပြစ်မှားသောသူသည်၊ မှားယွင်းသောမိန်းမနှင့်
တကွ၊ အသေ သတ် ခြင်း ကို အမှန် ခံရ မည်။–
၁၁ ကိုယ်အဖ၏ မယားနှင့် သင့်နေသောသူသည်၊
အဖနှင့်သာ ဆိုင်သော အရာကို ပြစ်မှား သော
ကြောင့်၊ ထိုမိန်းမနှင့်တကွ၊ အသေသတ်ခြင်းကို
အမှန် ခံရမည်။ သေထိုက်သော အပြစ် ရှိ၏။–
၁၂ ယောကျ်ားသည်၊ ကိုယ်ချွေးမနှင့်သင့်နေလျှင်၊
ထိုသူနှစ်ယောက်တို့သည်၊ ရွံရှာ ဖွယ်သောရော
နှောခြင်းကိုပြုသောကြောင့်၊ အသေသတ်ခြင်း
ကိုအမှန်ခံရမည်။ သေထိုက်သောအပြစ်ရှိ၏။–
၁၃ မိန်းမ နှင့် ပေါင်းဖော် သကဲ့သို့၊ ယောကျ်ား ချင်း
ပေါင်းဖော်လျှင်၊ ထိုသူနှစ်ယောက်တို့သည်၊ ရွံ
ရှာ ဖွယ်သောအမှုကိုပြုသောကြောင့်၊ အသေ
သတ်ခြင်းကိုအမှန်ခံရမည်။ သေထိုက်သောအ
၁၄ ပြစ်ရှိ၏။– ယောကျ်ား သည် ထိုမိန်းမ နှင့် အမိ ကို
မယားပြုလျှင်၊ မတရားသောအမှုဖြစ်၏။ သင်
တို့တွင် မတရားသောအမှုမရှိစေခြင်းငှါ၊ ထိုသူ
၁၅ သုံးယောက် တို့ကို မီးရှို့ရမည်။– ယောကျ်ား
သည်၊ တိရစ္ဆာန်နှင့်ပေါင်းဖော်လျှင်၊ အသေ
သတ်ခြင်းကို အမှန်ခံရမည်။ ထိုတိရစ္ဆာန် ကို
၁၆ လည်း သတ်ရမည်။– မိန်းမသည်လည်း၊ မိမိနှင့်
တိရစ္ဆာန်၏ ပေါင်းဖော်ခြင်းကိုခံလျှင်၊ ထိုမိန်းမ
နှင့် တိရစ္ဆာန်သည် အသေသတ်ခြင်းကို အမှန်
၁၇ ခံရမည်။ သေထိုက်သောအပြစ်ရှိ၏။–ယောကျ်ား
သည်၊ အဖ၏သမီး၊ အမိ၏သမီးဖြစ်သော၊ မိမိနှမ
နှင့်သင့်နေလျှင်၊ မတရားသောအမှုဖြစ်၏။ ထိုသူ
တို့သည်၊ အမျိုးသားချင်းတို့ရှေ့မှောက်၌ပယ်
ရှင်းခြင်းကိုခံ ရကြမည်။ ထိုယောကျ်ားသည်၊
နှမနှင့်သင့်နေသောကြောင့်၊ မိမိအပြစ်ကိုခံရ
၁၈ မည်။– ယောကျ်ားသည်၊ ဥတုရောဂါစွဲလျက်ရှိ
သော မိန်းမနှင့် သင့်နေလျှင်၊ ထိုသူတို့သည် ထ
သောတွင်း၊ အသွေးထွက်ရာအရပ်ကိုထင်ရှားစေသော
ကြောင့်၊ သူတို့အမျိုးမှပယ်ရှင်းခြင်းကိုခံရကြ
၁၉ မည်။–အဖ၏နှမ၊ အမိ၏ညီမနှင့်မသင့်မနေရ။
ထိုသို့သောပေါက်ဖော်ရင်းနှင့် သင့်နေသောသူ
၂၀ တို့သည်၊ မိမိအပြစ်ကိုခံရကြမည်။– အဖ၏ညီ
အစ်ကိုမယားနှင့်သင့်နေလျှင်၊ အဖ၏ညီအစ်ကို
နှင့်သာဆိုင်သောအရာကိုပြစ်မှားသောကြောင့်၊
ထိုသူတို့သည်၊ မိမိအပြစ်ကိုခံရသဖြင့်၊ တသက်
၂၁ လုံး သားမရဘဲ နေရလိမ့်မည်။– ညီအစ်ကို၏
မယားနှင့်သင့်နေလျှင်၊ ညစ်ညူးသောအမှုဖြစ်
၏။ ညီအစ်ကိုနှင့်သာဆိုင်သောအရာကိုပြစ်မှား
သောကြောင့်၊ ထိုသူတို့သည် သားမရဘဲ နေရ
လိမ့်မည်။
၂၂ သင်တို့ကို ငါပို့ဆောင်၍ နေရာချသော ပြည်
သည်မထွေးအန်စေခြင်းငှါ၊ သင်တို့သည်ငါစီ
၂၃ ရင်ထုံးဖွဲ့သမျှတို့ကိုကျင့်ဆောင်ရမည်။– သင်
တို့ရှေ့မှငါနှင်ထုတ်သောလူအမျိုးမျိုးတို့၏ထုံး
ထမ်းစလေ့သို့မလိုက်ရ။ သူတို့သည်ထိုသို့သော
အမှုခပ်သိမ်းတို့ကိုပြုသောကြောင့်ငါရွံရှာ၏။–
၂၄ သူတို့ပြည် တည်းဟူသော၊ နို့နှင့် ပျားရည် စီး
သောပြည်ကို၊ သင်တို့သည်အမွေခံစေခြင်းငှါ၊
ငါ အပိုင် ပေးမည်ဟု၊ ငါ အမိန့်တော်ရှိပြီ။ ငါ
သည် သင်တို့ကို အခြားသော အမျိုးနှင့်ခွဲထား
သော၊ သင်တို့ဘုရားသခင် ထာဝရဘုရား ဖြစ်
၂၅ ၏။–ထိုအကြောင်းကြောင့်၊ စင်ကြယ်သောသား၊
မစင်ကြယ်သောသား၊ စင်ကြယ်သောငှက်၊ မ
စင်ကြယ်သောငှက်တို့ကိုပိုင်းခြားရမည်။ ငါခွဲ
ထားသည် အတိုင်း၊ မစင် ကြယ်သော သား၊
ငှက်၊ မြေပေါ်မှာတွားတတ်သောတိရစ္ဆာန်အ
မျိုးတစုစုအားဖြင့်၊ ကိုယ်ကိုကိုယ် ရွံရှာဖွယ်မဖြစ်
၂၆ စေရ။– ငါထာဝရဘုရား သန့်ရှင်းသည်ဖြစ်၍၊
သင်တို့ကိုငါ့အလိုရှိသဖြင့်၊ အခြားသောအမျိုး
နှင့်ခွဲထားသောကြောင့်၊ ငါ့အဖို့ သန့်ရှင်းခြင်းရှိ
၂၇ ရကြမည်။– ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ နတ်
ဝင်သော သူ၊ စုန်း လုပ်သော သူသည်၊ အသေ
သတ်ခြင်းကိုအမှန်ခံရမည်။ ထိုသို့သောသူတို့ခဲ
နှင့်ပစ်ရကြမည်။ သူ၌သေထိုက်သောအပြစ်ရှိ
သည်ဟုမိန့်တော်မူ၏။

၂၁

၁ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
သည်အာရုန်၏သား ယဇ်ပုရောဟိတ်တို့အား
ဆင့်ဆိုရမည်မှာ၊ အမျိုးသားချင်း သေသော အ

တွတ်၊ သင်တို့တွင် အထယ်သူမှုညစ်ညူးခြင်းမ
၂ ရှိရ။-သို့ရာတွင်၊ပေါက်ဖော်ရင်းတည်းဟူသော
၃ မိထ၊ သား၊ သို့၊ ညီအစ်ကို၊- ထင်မနေသောက
ညာ နှမရင်း အတွက်၊ ညစ်ညူးခြင်းကို ခံရ
၄ သော အခွင့်ရှိ၏။- အမျိုးသားချင်း သူကြီးအ
တွက်၊ ကိုယ်ကိုကိုယ် ရှုတ်ချ၍ညစ်ညူးခြင်းမရှိ
၅ ရ။-ထာဝရပရောဟိတ်သည်ဆံပင်ကိုမရိတ်ရ။ပါး
ရိုန်းကိုမရိတ်ရ၊ အသား၌ ရုတ်ရှခြင်းကို မပြု
၆ ရ။- သူသည် မိမိဘုရားသခင် အဖို့ သန့်ရှင်းရ
မည်၊ မိမိဘုရားသခင်၏နာမတော်ကိုမရှုတ်မချ
ရ၊ ထာဝရဘုရား၏အားမီးဖြင့်ပြုသောပူဇော်သ
ကာ၊ မိမိ ဘုရားသခင်၏ အစာ အာထာရကို ပူ
၇ ဇော်သောကြောင့်၊သန့်ရှင်းခြင်းရှိရမည်။- သူ
သည်ပြည်တန်ဆာမိန်း၊ သီလပျက်သောမိန်း၊ထင်
နှင့်ကွာသော မိန်းနှင့်မစုံဖက်ရ၊ မိမိဘုရားသခင်
၈ အဖို့သန့်ရှင်း၏၊-သင်၏ဘုရားသခင်ပွဲတော်ကို
ဆက်သော ကြောင့်၊ သူကို သန့်ရှင်းစေ၍၊ သူ
သည် သင့်အဖို့သန့်ရှင်းရမည်။ သင်တို့ကိုသန့်
၉ ရှင်းစေသောငါထာဝရဘုရားသန့်ရှင်း၏။-ထင်
ပရောဟိတ် ထွီးသည်၊ ပြည်တန်ဆာ ထုစ်၍၊
ကိုယ်ကို ကိုယ်ရှုတ်ချလျှင်၊ မိမိအဖကိုရှုတ်ချ
ရာရောက်၏၊ထိုသူကိုမီးရှို့ရမည်။
၁၀ မိမိအမျိုးသားချင်းတို့တွင်၊ အဝတ်တန်ဆာ
ဆင်လျက်၊ဆရာ၌ခန့်ထား၍မိမိခေါင်းပေါ်မှာ
ဆီလောင်းခြင်းဘိသိတ်ကိုခံသောယဇ်ပရော
ဟိတ်မင်းသည်၊ မိမိခေါင်း၌တန်ဆာကို မချွတ်
၁၁ ရ၊ မိမိအဝတ်ကိုမဆုတ်ရ။- အသေကောင်ကို
မချည်းရ၊ မိထအတွက်ညစ်ညူးခြင်းကိုမခံရ။-
၁၂ သန့်ရှင်းရာဌာနတော်ထဲကမထွက်ရ၊မိမိဘုရား
သခင်၏ သန့်ရှင်းရာ ဌာနတော်ကို မရှုတ်မချရ၊
အကြောင်းမူကား၊ မိမိဘုရားသခင်၏ဘိသိတ်
ဆီနှင့်ဆိုင်သောသင်းကျင်ကိုဆောင်းရသောသူ
၁၃ ဖြစ်၏၊ ငါသည်ထာဝရဘုရားဖြစ်၏။- ယဇ်ပ
ရောဟိတ်မင်းသည်၊အပျိုကညာနှင့်သာစုံဖက်
၁၄ ရမည်။- ရဆိုးမ၊ လင်နှင့်ကွာသောမိန်း၊ သီလ
ပျက်သောမိန်း၊ ပြည်တန်ဆာမိန်းနှင့် မစုံဖက်ရ၊
မိမိအမျိုးသားချင်းအပျိုကညာနှင့်သာစုံဖက်ရ
၁၅ မည်။- မိမိသားကို၊ အမျိုး သားချင်း တို့တွင်မ
ရှုတ်မချရ၊ ငါထာဝရဘုရားသည်၊ယဇ်ပရော
ဟိတ်မင်းကိုသန့်ရှင်းစေသည်ဟုမိန့်တော်မူ၏၊
၁၆ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
၁၇ သည် အာရုန်အား ပြောဆိုရမည်မှာ၊-သင်၏အ
မျိုး အစဉ်အဆက်တွင် ကိုယ်၌ အပြစ်ရှိသော
သူသည်၊မိမိဘုရားသခင်၏ပွဲတော်ကိုဆက်ကပ်
၁၈ ခြင်းငှါမချဉ်းမကပ်ရ။- မျက်မိကန်းသော
သူ၊ ခြေဆွံ့သောသူ၊ နှာခေါင်းပိသောသူ၊ အင်္ဂါ
၁၉ ပိုလွန်သောသူ၊- ထက်ကျိုးသောသူ၊ ခြေကျိုး
၂၀ သောသူ၊-ကြောကုန်းသောသူ၊ပုသောသူ၊မျက်
မိနာသောသူ၊ ဝဲစွဲသောသူ၊ ယားနာစွဲသောသူ၊
ဝှေးစေ့ပျက် သော သူသည် မချဉ်းမကပ်ရ။-
၂၁ ယဇ်ပရောဟိတ်အာရုန်အမျိုးတွင်၊ ကိုယ်၌အ
ပြစ်ပါသောသူတစုံတယောက်မျှ၊ထာဝရဘုရား
အားမီးဖြင့်ပြုသော ပူဇော်သကာကို ဆက်ကပ်
ခြင်းငှါ မချဉ်းမကပ်ရ၊ ကိုယ်၌ အပြစ်ပါ
သောကြောင့်၊ မိမိ ဘုရားသခင်၏ ရုန့်တော်ကို
၂၂ ဆက်ကပ်ခြင်းငှါမချဉ်းမကပ်ရ၊-သန့်ရှင်း
သောရုန့်ဖြစ်စေ၊ အလွန်သန့်ရှင်းသောရုန့်ဖြစ်
စေ၊ မိမိဘုရားသခင်၏ရုန့်တော်ကိုစားရမည်။-
၂၃ ကိုယ်၌အပြစ်ပါသောကြောင့်၊ငါသန့်ရှင်းရာဌာ
နအရပ်တို့ကို ရှုတ်ချမည်ကိုမိုးရိမ်၍၊ ကုလား
ကာချပ်တွင်းသို့ မဝင်ရ၊ ယဇ်ပလ္လင်သို့မချဉ်းမ
ကပ်ရ၊ ငါထာဝရဘုရားသည်၊ထိုအရပ်တို့ကို
၂၄ သန့်ရှင်းစေသည်ဟု မိန့်တော်မူ၏။- မောရှေ
သည်၊ အာရုန်နှင့်သူ၏သား၊ ဣသရေလအမျိုး
သား အပေါင်းတို့အား ဆင့်ဆိုလေ၏။

၂၂

၁ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော်မူသည်ကား၊- အာရုန်နှင့်သူ၏ သားတို့
သည်၊ ငါ့အဖို့သန့်ရှင်းစေသောအရာအားဖြင့်၊
သန့်ရှင်းသော ငါ၏နာမတော်ကို မရှုတ်မချဘဲ၊
ဣသရေလအမျိုးသားတို့၏သန့်ရှင်းသောအရာ
ရှားနှင့်၊ကိုယ်ကိုကိုယ်ကွာစေရမည့်အကြောင်း၊
ဆင့်ဆိုလော့၊ ငါသည် ထာဝရဘုရား ဖြစ်၏။-
၃ ထာဝရဘုရားအဖို့ ဣသရေလ အမျိုးသားသန့်
ရှင်းစေသဖြင့်၊သန့်ရှင်းခြင်းရှိသောအရာတို့ကို၊
ကိုယ်မစင်ကြယ်လျက်နှင့်ချဉ်းကပ်သောယဇ်
ပရောဟိတ်အမျိုးသားမည်သည်ကား၊ ငါ့ထံမှ
ပယ်ရှင်းခြင်းကို ခံရမည်၊ ငါသည် ထာဝရ
၄ ဘုရားဖြစ်၏။- နူနာ၊ ယိုနာစွဲသောအာရုန်၏အ
မျိုးသား မည်သည်ကား၊ မစင်ကြယ်မှီ တိုင်
အောင်၊သန့်ရှင်းသောအရာကိုမစားရ၊ အသေ
ကောင်နှင့် ဆိုင်၍ မသန့်ရှင်းသော အရာကို ထိ
၅ သောသူ၊သုတ်ရေထွက်သောသူ၊-ညစ်ညူးစေ၍
တွားတတ်သောတိရိစ္ဆာန်ကိုထိသောသူ၊ ညစ်

ညှုးခြင်းအစုံတခုခု၌ညစ်ညူးသောသူ၊ ထိုသို့
၆ သောသူကို ထိသောသူသည်၊- ညဦး
ဆိုင်အောင်မစင်ကြယ်ဘဲဖြစ်ထိမ့်မည်၊ ကိုယ်ကို
ရေမချိုးဘဲနေလျှင်၊ သန့်ရှင်းသောအရာကို မ
၇ စားရ။- နေဝင်သောနောက်မှ၊ သန့်ရှင်းခြင်းသို့
ရောက်သည်ဖြစ်၍၊ သန့်ရှင်းသော အရာသည်
သူတို့စားစရာဖြစ်သောကြောင့်၊ထိုနောက်မှစား
၈ ရကြမည်။- အလိုလိုသေသောအကောင်၊သား
ရဲကိုက်၍ သေသော အကောင်အားဖြင့် ကိုယ်
ကိုညစ်ညူးစေ၍မစားရ။ငါသည်ထာဝရဘုရား
၉ ဖြစ်၏။- ယဇ်ပုရောဟိတ် တို့သည်၊ ငါ့ပညတ်
တော်ကို ရှုတ်သဖြင့်၊ ကိုယ်အပြစ်ကို ခံလျက်
သေရမည် အကြောင်း၊ ငါ့ပညတ် တရားကို
စောင့်ရှောက်ရကြမည်။ငါထာဝရဘုရားသည်
သူတို့ကိုသန့်ရှင်းစေ၏။
၁၀ တပါးအမျိုးသားသည်၊ သန့်ရှင်းသောအရာ
ကိုမစားရ။ ယဇ်ပုရောဟိတ်၌တည်းခိုသော
၁၁ ဧည့်သည်မစားရ။သူငှါးလည်းမစားရ။- ယဇ်
ပုရောဟိတ်သည် ကိုယ်ငွေနှင့် ဝယ်သော သူ၊
သူ၏အိမ်၌ဖွားသောသူသည်၊သူ၏အစာကိုစား
၁၂ ရမည်။- ယဇ်ပုရောဟိတ်သမီးသည်၊ တပါးအ
မျိုးသား၏ မယား ဖြစ်လျှင်၊ သန့်ရှင်းသော ပူ
၁၃ ဇော်သကာအရာကိုမစားရ။- သို့ရာတွင်၊ လင်
သေသော်၎င်း၊လင်နှင့်ကွာသော်၎င်း၊သားမရှိဘဲ
မိမိအဖအိမ်သို့ပြန်၍၊ ငယ်စဉ်အခါ နေသကဲ့
သို့နေပြန်လျှင်၊ အဖ၏ အစာကိုစားရမည်။ တ
၁၄ ပါးအမျိုးသားမစားရ။-လူသည်သန့်ရှင်းသော
အရာကိုမသိဘဲစားမိလျှင်၊ စားမိသောအရာ၏
အဖိုးနှင့်တကွ၊ ငါးစုတစုကိုထပ်၍၊ယဇ်ပုရော
၁၅ ဟိတ်အားပေးရမည်။- ဣသရေလအမျိုးသား
တို့သည် ထာဝရ ဘုရားအား ပူဇော်၍၊ သန့်
၁၆ ရှင်းသောအရာတို့ကိုမရှုတ်မချရ။- ထိုအရာတို့
ကိုစားမိ၍၊ပြစ်မှားသောအပြစ်ကိုမခံစေရ။ ငါ
ထာဝရဘုရားသည်၊သူတို့ကိုသန့်ရှင်းစေသည်
ဟုမိန့်တော်မူ၏။
၁၇ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
သည် အာရုန်နှင့်သူ၏သား၊ ဣသရေလအမျိုး
၁၈ သားအပေါင်းတို့အားဆင့်ဆိုရမည်မှာ၊-ဣသ
ရေလ အမျိုးသားဖြစ်စေ၊ ဣသရေလ အမျိုး၌
တည်နေသောတပါးအမျိုးသားဖြစ်စေ၊သစ္စာဂ
တိရှိ၍ ပြုသောပူဇော်သကာ၊ အလိုလို ပြုသော
ပူဇော်သကာတည်းဟူသော၊ မီးရှို့ရာယဇ်ကို
၁၉ ထာဝရဘုရားအားပူဇော်လိုလျှင်၊- မိတ်တော်
နှင့်တွေ့ခြင်းငှါ၊အပြစ်မပါသောသိုး၊ဆိတ်၊နွား
၂၀ အထီးကိုပူဇော်ရမည်။-အပြစ်ပါသောအကောင်
ကိုမပူဇော်ရ။ပူဇော်လျှင်၊မိတ်တော်နှင့်မတွေ့။-
၂၁ သစ္စာဂတိရှိ၍ပြုသောပူဇော်သကာ၊အလိုလိုပြု
သောပူဇော်သကာသို့၊ ဆိတ်၊ နွားကို၊ထာဝရ
ဘုရားအား ယဇ်ပူဇော် လိုလျှင်၊ မိတ်တော်နှင့်
တွေ့ခြင်းငှါစုံလင်ရမည်။ အပြစ်တစုံတခုမျှမရှိ
၂၂ ရ။-မျက်စိကန်းသောအပြစ်၊အရိုးကျိုးသောအ
ပြစ်၊အင်္ဂါချို့တဲ့သောအပြစ်၊ ခြင်းဖုရှိသော အ
ပြစ်၊ ဝဲနာ၊ ယားနာ စွဲသောအပြစ် တစုံတခုရှိ
လျှင်၊ ထာဝရ ဘုရားအား မပူဇော်ရ၊ ယဇ်
ပလ္လင်ပေါ်မှာထာဝရဘုရားအားမီးဖြင့်ပူဇော်
၂၃ သကာမပြုရ။- သို့ရာတွင်၊ အင်္ဂါပိုခြင်း၊ ချို့တဲ့
ခြင်းအပြစ်ရှိသော သိုး၊ ဆိတ်၊ နွားကိုအလိုလို
ပူဇော် သကာဘို့ ပူဇော်ရမည်။ သစ္စာဂတိနှင့်
၂၄ ဆိုင်၍ပူဇော်လျှင်၊မိတ်တော်နှင့်မတွေ့။- ကြိတ်
နယ်စုတ်ပြတ်ရာအနာရှိသောအထီးကို၊ ထာဝ
ရဘုရားအား မပူဇော်ရ။ သင်တို့ပြည်၌ ထိုသို့
၂၅ သောအကောင်ကိုပူဇော်သကာမပြုရ။- ထိုသို့
သောအကောင်ကိုတပါးအမျိုးသားဆက်သော်
လည်း၊ ပျက်သော အပြစ်ပါသောကြောင့်၊သင်
တို့၏ဘုရားသခင် ပွဲတော်ဘို့ မပူဇော်ရ။ ပူဇော်
လျှင်၊မိတ်တော်နှင့်မတွေ့ဟုမိန့်တော်မူ၏။
၂၆ တဖန် ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂၇ တော်မူသည်ကား၊-သိုး၊ဆိတ်၊နွားတို့သည်ဖွား
ဖွားသောအခါ၊ ခုနစ်ရက် အတွင်းတွင်၊ သား
ငယ်ကိုအမိနှင့်မကွာစေရ။ အဋ္ဌမနေ့မှစ၍ထာ
ဝရဘုရားအား မီးဖြင့်ပူဇော် သကာဘို့ တော်
၂၈ သင့်၏။-နွားဖြစ်စေ၊သိုးဆိတ်ဖြစ်စေ၊သားအမိ
၂၉ နှစ်ကောင်ကိုတနေ့ချင်းတွင်မသတ်ရ။-ကျေးဇူး
တော် ဝန်ခံရာယဇ်ကို၊ ထာဝရဘုရားအား ပူ
ဇော်လိုလျှင်၊ မိတ်တော်နှင့်တွေ့ခြင်းငှါ ပူဇော်
၃၀ လော့။- တနေ့ချင်းတွင်စားရမည်။ နက်ဖန်နေ့
တိုင်အောင်မကြွင်းစေရ။ ငါသည်ထာဝရဘုရား
၃၁ ဖြစ်၏။-သင်တို့သည်ပညတ်တို့ကိုကျင့်စောင့်
၃၂ ရကြမည်။ငါသည်ထာဝရဘုရားဖြစ်၏။- သန့်
ရှင်းသောငါ၏နာမတော်ကိုမရှုတ်မချရ။ ထာဝ
ရဘုရား သန့်ရှင်းတော်မူသည်ဟု၊ ဣသရေလ
၃၃ အမျိုးသားတို့သည် ထင်မှတ် ရကြမည်။- ငါ
သည်၊သင်တို့၏ဘုရားသခင်ဖြစ်ခြင်းငှါ၊သင်တို့
ကိုအဲဂုတ္တုပြည်မှ နှုတ်ဆောင်၍၊ သန့်ရှင်းစေ

သော ထာဝရ ဘုရား ဖြစ်၏၊ ငါသည် ထာဝရ
ဘုရားဖြစ်သည်ဟုမိန့်တော်မူ၏။

၂၃

၁ ထာဝရဘုရားသည် မောရှေအား မိန့်တော်မူသည်ကား၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
၂ မည်မှာ၊- သင်တို့သည် စီရင်ရသော စွဲမည်း
စေးခြင်းတည်းဟူသော၊ ငါထာဝရဘုရား၏ ပွဲ
၃ တော်များဟူမူကား၊- ခြောက်ရက်ပတ်လုံးအ
လုပ်လုပ်ရမည်၊ သတ္တမနေ့ရက်သည်၊ ငြိမ်ဝပ်
ခြင်းနေ့ရှိသော ဥပုသ်နေ့၊ စွဲမည်းဝေးခြင်းကိုပြု
ရသောနေ့ ဖြစ်၏၊ ထိုနေ့၌သင်တို့သည်အလုပ်မ
လုပ်ရကြ၊ သင်တို့ နေရာ အရပ်ရပ်၌ ထာဝရ
ဘုရား၏ဥပုသ်နေ့ဖြစ်၏။
၄ အချိန်တန်မှသင်တို့ကြော်ငြာရသောစွဲမည်း
ဝေးခြင်းတည်းဟူသော၊ ထာဝရ ဘုရား၏ ပွဲ
၅ တော်များဟူမူကား၊- ပဌမလ၊ဆယ်လေးရက်
နေ့ညဦးယံ၌၊ထာဝရဘုရား၏ပသခါ ပွဲဖြစ်၏။-
၆ ရင်လ၊ဆယ်ငါးရက်နေ့၌ထာဝရဘုရားအဖို့အ
ဇူမပွဲကိုခံရကြမည်၊ ခုနစ်ရက်ပတ်လုံးတဆေး
၇ မဲ့မုန့်ကိုစားရကြမည်။- ပဌမနေ့၌စွဲမည်းဝေး
ခြင်းကိုပြုရမည်၊ ထောက်အလုပ်ကိုမလုပ်ရ။-
၈ ခုနစ်ရက်ပတ်လုံး ထာဝရဘုရားအား မီးဖြင့်ပူ
ဇော် သကာကိုပြုရမည်၊ သတ္တမ နေ့၌သည်။
စွဲမည်းဝေးခြင်းကိုပြုရမည်၊ ထောက်အလုပ်
ကိုမလုပ်ရဟုမိန့်တော်မူ၏။
၉ ထပ်မံ မောရှေအား ထာဝရဘုရား မိန့်တော်
မူသည်ကား၊ သင်သည် ဣသရေလအမျိုးသား
၁၀ တို့အားဆင့်ဆိုရမည်မှာ၊-သင်တို့သည်ငါပေး
သော ပြည်သို့ရောက်၍၊ စပါးကိုရိတ်သောအ
ခါ၊ အဦးရိတ်သောကောက်လှိုင်း တစည်းကို၊
၁၁ ယဇ်ပုရောဟိတ်ထံသို့ဆောင်ခဲ့ရမည်၊-သင်တို့
သည် မိတ်တော်နှင့်တွေ့ခြင်းငှါ၊ ယဇ် ပုရော
ဟိတ်သည်၊ ဥပုသ်နေ့ လွန်မှ၊ နက်ဖန်နေ့တွင်
ထိုကောက်လှိုင်းကို၊ ထာဝရဘုရားရှေ့တော်၌
၁၂ လှုပ်ရမည်၊- ကောက်လှိုင်းကိုလှုပ်သောနေ့၌
အပြစ်မထည့်၊ အပြစ်မပါသော သိုးသငယ် အ
ထီးကို၊ ထာဝရဘုရားအဖို့ မီးရှို့ရာယဇ်ပြု၍ ပူ
၁၃ ဇော်ရမည်၊- ထို ယဇ် နှင့် ဆိုင်သော သော
ဘည်ပူဇော်သကာကား၊ ထာဝရ ဘုရားအား
မွှေးကြိုင်ရာဖို့ မီး ဖြင့် ပြုသော ပူဇော်သကာ
တည်းဟူသော၊ ဆီနှင့်ရောသော မုန့်ညက်နှစ်
ဖြာခဲဖြစ်ရမည်၊ လွန်းသောစပျစ်ရည်ပူဇော်သကာ
၁၄ ကား စတုတ္ထရည်ထုံးဖြစ်ရမည်။-သင်တို့
၏ဘုရား ထံဝင် ထံတော် သို့ ပူဇော် သ ကာ ကို
ဆောင်ခဲ့သောနေ့မရောက်မှီ၌၊ မုန့်၊ဆန်လှော်၊
မိမ်း၊ သော အသီး အနှံ ကို မစားရ၊ သင်တို့နေ
ရာ အရပ်ရပ် ၌ သင်တို့အမျိုး အစဉ် အဆက်
စောင့်ရသောပညတ်တော်ဖြစ်သတည်း။
၁၅ ကိုလှုပ် ရာ ပူ ဇော် သ ကာ ကောက် လှိုင်း ကို
ဆောင်ခဲ့သောနေ့၊ ဥပုသ်နေ့အလွန် နက်ဖန်နေ့
ကစ၍ ခုနစ်ပတ်၊ ခုနစ် သိတင်း စေ့အောင် ရေ
၁၆ တွက်ရမည်၊- သတ္တမဥပုသ်နေ့အလွန်နက်ဖန်
နေ့အထိ၊အရက်ငါးဆယ် တိုင်အောင်ရေတွက်ပြီး
လျှင်၊ ထာဝရဘုရားအား သောဘည်ပူဇော်သ
၁၇ ကာအသစ်ကိုဆက်ရကြမည်။- ထာဝရဘုရား
အဖို့ အဦးသီးသောအသီး၊ တဆေးဖြင့်ဖောင်း
ကြွသောမုန့်ညက်နှစ်ဖြာခဲနှင့်လုပ်သော၊ လှုပ်
ရာမုန့်နှစ်လုံးကို၊ သင်တို့အိမ်မှထုတ်ဆောင်ခဲ့
၁၈ ၍၊-ထိုမုန့်နှင့်အကွ အခါမထည့်၊အပြစ်မပါသော
တနှစ်သားသိုးသငယ် ခုနစ်ကောင်၊ နွားသငယ်အထီး တ
ကောင်၊ ဆိတ်နှစ်ကောင်ကိုဆက်၍၊သောဘည်
ပူဇော်သကာ၊ သွန်းလောင်းရာပူဇော်သကာနှင့်
တကွ၊ထာဝရဘုရားအား မွှေးကြိုင်ရာဖို့မီးဖြင့်
ပြုသော ပူဇော်သကာတည်းဟူသော၊ မီးရှို့ရာ
၁၉ ယဇ်ကို၊ထာဝရဘုရားအားပူဇော်ရမည်။- အ
ပြစ် ဖြေရာ ယဇ်ဘို့ ဆိတ်သငယ် တကောင် ထို
ရင်၊မိဿဟာယယဇ်ဘို့အပြစ်မထည့်သောတိုး
၂၀ သငယ်နှစ်ကောင်ကိုဒင်ပူဇော်၍- ယဇ်ပုရော
ဟိတ်သည်၊ အဦးသီးသောအသီးမုန့်နှင့်တကွ
လှုပ်သည်၊ သင်ဖြင့်၊သိုးသငယ်နှစ်ကောင်ပါလျှက်၊ထာ
ဝရဘုရားရှေ့တော်၌ လှုပ်ရာပူဇော်သကာပြုရ
မည်၊ ထိုအရာတို့သည်လည်း၊ယဇ်ပုရောဟိတ်
အဖို့၊ ထာဝရဘုရားရှေ့မှာသန့်ရှင်းသောအရာ
၂၁ ဖြစ်သတည်း။- ထိုနေ့၌လည်း၊စွဲမည်းဝေးခြင်း
ကိုစီရင်ရကြမည်၊ ထောက်အလုပ်ကိုမလုပ်ရ၊
သင်တို့ နေရာအရပ်ရပ်၌ သင်တို့အမျိုးအစဉ်
အဆက်စောင့်ရသောပညတ်ဖြစ်သတည်း။
၂၂ ကိုယ်မြေ၌ဖြစ်သော စပါးကိုရိတ်သောအခါ၊
ထယ်ထောင့်တို့ကိုအကုန်အစင်မရိတ်ရ၊ ထိမ်း
ရာ တွင် ကျန် ကြွင်း သော အ ရာ ကို၊ ပြန် ၍ မ
ကောက်မသိမ်းရ၊ ထိုအရာကို ဆင်းရဲသောသူ၊
ဧည့်သည် အာဝန္တုအဖို့ ချန်ခြွင်း ရမည်၊ ငါ
သည် သင်တို့၏ဘုရားသခင် ထာဝရဘုရားဖြစ်
သည်ဟုမိန့်တော်မူ၏။

၂၄ ထဝန် မောရှေအား ထာဝရဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊–သင်တို့သည်သတ္တမလ၊ပဌမနေ့ရက်၌
အိမိုးမှုတ်၍၊ စုဝေး စည်းဝေးခြင်းကို ပြုရသော
၂၅ ဥပုသ်နေ့ကိုစောင့်ရကြမည်။– ကောကိအလုပ်
ကိုမလုပ်ရ၊ ထာဝရဘုရားအားမီးဖြင့်ပြုသော
ပူဇော်သကာကိုဆက်ရမည်ဟုမိန့်တော်မူ၏။
၂၆ ထဝန် ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂၇ တော်မူသည်ကား၊– သတ္တမလ၊ ဒသမနေ့သည်
ထည်း၊အပြစ်ဖြေရာနေ့၊ စုဝေးစည်းဝေးခြင်းကိုပြု
သောနေ့ဖြစ်၏၊ ဖြိုးခြိုးစွာကျင့်ရမည်၊ ထာဝရ
ဘုရားအား၊ မီးဖြင့် ပြုသော ပူဇော် သကာ ကို
၂၈ ဆက်ကပ်ရမည်။– ထိုနေ့၌ အထူးအလုပ်ကို
မျှမလုပ်ရ၊ သင်တို့ဘုရားသခင် ထာဝရဘုရား
ရှေ့တော်၌၊ ကိုယ်အပြစ်ဖြေခြင်းကို ပြုရသော
၂၉ နေ့ဖြစ်၏။–ထိုနေ့၌ဖြိုးခြိုးစွာမကျင့်သောသူမည်
သည်ကား၊ မိမိ အမျိုးမှ ပယ်ရှင်းခြင်းကို ခံရ
၃၀ မည်။– ထိုနေ့၌အလုပ်တစုံတခုကိုလုပ်သောသူ
မည်သည်ကို၊ သူ၏အမျိုးမှငါပယ်ရှားဖျက်ဆီး
၃၁ မည်။– အထူးအလုပ်ကိုမျှမလုပ်ရ၊သင်တို့နေ
ရာရပ်ရပ်၌ သင်တို့အမျိုးအစဉ်အဆက်စောင့်
၃၂ ရသောပညတ်တော်ဖြစ်သတည်း။– ထိုနေ့သည်
ငြိမ်ဝပ်စွာ နေရသောနေ့၊ ဖြိုးခြိုးစွာကျင့်ရသော
နေ့ဖြစ်၏၊ နဝမနေ့ညဦးမှစ၍ နက်ဖန် ညဦးတိုင်
အောင်၊ ဥပုသ်စောင့်ရမည်ဟုမိန့်တော်မူ၏။
၃၃ ထဝန် မောရှေအား ထာဝရဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
၃၄ မည်မှာ၊–သင်တို့သည်သတ္တမလ၊ဆယ်ငါးရက်
နေ့မှစ၍၊ ခုနစ်ရက်ပတ်လုံး ထာဝရဘုရားအ
၃၅ မှီသကေနေပွဲကို ခံရကြမည်။– ပဌမနေ့၌ စုဝေး
စည်းဝေးခြင်းကိုပြုရမည်၊အလုပ်ကိုမလုပ်ရ။–
၃၆ ခုနစ်ရက်ပတ်လုံး ထာဝရဘုရားအားမီးဖြင့်ပြု
သောပူဇော်သကာကိုဆက်ကပ်ရမည်၊ အဋ္ဌမ
နေ့၌လည်း၊စုဝေးစည်းဝေးခြင်းကိုပြု၍၊ ထာဝရ
ဘုရားအား မီးဖြင့် ပြုသော ပူဇော် သကာကို
ဆက်ကပ်ရမည်၊ထူးဆန်းသော စည်းဝေးခြင်း
၃၇ ဖြစ်၍၊ကောကိအလုပ်ကိုမလုပ်ရ။–ဤနေ့ကား၊
၃၈ ထာဝရဘုရား၏ ဥပုသ်နေ့၊ ထာဝရဘုရားအား
ဆက်ကပ်ရသောအလှူဒါန၊ သစ္စာဂတိနှင့်ဆိုင်
သောပူဇော်သကာ၊ အလိုလိုပြုသောပူဇော်သ
ကာမှတပါး၊ နေ့ရက်အသီးအသီးတို့၌ ထာဝရ
ဘုရားအားမီးဖြင့်ပြုသောပူဇော်သကာ၊မီးရှို့ရာ
ယဇ်၊ ဘောဇဉ်ပြီ ပူဇော်သကာ၊ ယဇ်၊ ပူဇော်
ခြင်းငှာ ထွန်းထောင်းရာ ပူဇော်သကာကို ပြုစေ
ခြင်းငှါ ပိရင်ရသောစုဝေးစည်းဝေးခြင်း၊ထာဝရ
၃၉ ဘုရား၏ပွဲတော်များဖြစ်သတည်း။–ထိုမှတပါး
သင်တို့သည် မြေအသီးအနှံကို သိမ်းယူသော
နောက်၊သတ္တမလ၊ဆယ်ငါးရက်နေ့မှစ၍၊ခုနစ်
ရက်ပတ်လုံးထာဝရဘုရားအား ပွဲခံရကြမည်၊
ပဌမနေ့နှင့် အဋ္ဌမနေ့၌ဥပုသ်စောင့်ရကြမည်။–
၄၀ ပဌမနေ့၌ ကောင်းမွန်သောသစ်သီး၊ စွန်ပလွံ
ခက်၊ မိုဃ်းမခပင် အစရှိသော၊ အရွက် များ
သောအပင်၏ အကိုင်းအခက်တို့ကိုယူ၍၊ သင်
တို့၏ဘုရားသခင်ထာဝရဘုရားရှေ့တော်၌ခုနစ်
၄၁ ရက်ပတ်လုံး၊ရွှင်လန်းခြင်းကိုပြုရကြမည်။– ထို
ပွဲတော်ကိုတနှစ်တနှစ်လျှင်၊ ခုနစ်ရက်ပတ်လုံး
ထာဝရဘုရားအမှီခံရကြမည်၊ သင်တို့အမျိုးအ
စဉ်အဆက်စောင့်ရသော ပညတ်တော်ဖြစ်သ
တည်း။ ထိုပွဲတော်ကိုသတ္တမလ၌ခံရကြမည်။–
၄၂ ဣသရေလ အမျိုးသားတို့ကို အဲဂုတ္တုပြည်မှ
၄၃ နှုတ်ဆောင်သော အခါ၊ သစ်ခက်တဲ၌ နေစေ
ကြောင်းကို၊ သင်တို့အမျိုးအစဉ် အဆက်တို့
သည်သိမှတ်မည်အကြောင်း၊ဣသရေလအမျိုး
သားအပေါင်းတို့သည်၊ သစ်ခက်တဲ၌ခုနစ်ရက်
ပတ်လုံးနေရကြမည်၊ ငါသည်သင်တို့၏ဘုရား
သခင်ထာဝရဘုရားဖြစ်သည်ဟု မိန့်တော်မူ၏။–
၄၄ မောရှေသည်လည်း၊ ထာဝရဘုရား၏ ပွဲတော်
များကို၊ ဣသရေလ အမျိုးသားတို့အား ပြန်
ကြားလေ၏။

၂၄

၁ ထဝန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော်မူသည်ကား၊– ပရိသတ်စည်းဝေးရာတဲ
တော်တွင်၊ သက်သေခံချက် ကုလားကာပြင်မှာ
မီးခုံ၌ အစဉ်မပြတ်မီးထွန်းရာဘို့၊ သံလွင်သီး
ကိုထောင်း၍ယူသောသံလွင်ဆီစစ်ကို၊ ဣသရေ
လ အမျိုးသား တို့သည်၊ သင့်ထံသို့ ဆောင်ခဲ့ရ
၃ မည်အကြောင်း ဆင့်ဆိုလော့။– အာရုန်သည်
ထည်း၊ ညဦးမှသည်နံနက်တိုင်အောင် ထာဝရ
ဘုရားရှေ့တော်၌၊ ထိုအမှုကိုစီရင်ရမည်၊ သင်
တို့အမျိုး အစဉ်အဆက်စောင့်ရသော ပညတ်
၄ တော်ဖြစ်သတည်း။– စင်ကြယ်သော မီးခုံ၌ မီး
ခွက်များကို၊ အာရုန်သည် ထာဝရဘုရား ရှေ့
တော်မှာ အစဉ်အမြဲဖွင်ဆင်ရမည်။
၅ သင်သည်မုန့်ညက်ကိုယူ၍၊ မုန့်တထုံးလျှင်

နှစ်ခြာခွဲစီ၊ မုန့်အထပ်နှစ်ထုံးကို လုပ်ပြီးလျှင်၊—
၆ ထာဝရဘုရားရှေ့၊ စင်ကြယ်သော စားပွဲပေါ်
မှာ မုန့်တထုံးပေါ်၌ တထုံးကိုထပ်ဆင့်၍၊ တပုံ
၇ ခြောက်ထုံးစီ၊ နှစ်ပုံပုံရမည်။— ထာဝရဘုရား
အား မီးဖြင့်ပြုသော ပူဇော်သက္ကာ တည်း၊ တူ
သောအောင်းအမှတ်ရှိရာဖြစ်စေခြင်းငှါ၊ ထို
မုန့် နှစ်ပုံပေါ်မှာ စင်ကြယ် သော လောဗန် ကို
၈ ထင်ထားရမည်။— ထာဝရဘုရား၏ပဋိညာဉ်နှင့်
အညီ၊ ဣသရေလ အမျိုး သားတို့ ထက်မှ ခံယူ
သောထိုမုန့်ကို၊ အာရုန်သည်ထာဝရဘုရားရှေ့
တော်၌၊ ဥပုသ်နေ့တိုင်း အစဉ်အမြဲ ပြင်ဆင်ရ
၉ မည်။— ထိုမုန့်ကိုအာရုန်နှင့်သူ၏ သားတို့သည်
ပိုင်၍၊ သန့်ရှင်းရာ ဌာနတော်၌ စားရကြမည်။
ထာဝရဘုရားအားမီးဖြင့်ပြုသောပူဇော်သက္ကာ
ထဲကထိုမုန့်သည်၊ထာဝရပညတ်တော်အတိုင်း၊
အာရုန် အဖို့ အလွန် သန့်ရှင်းသော အရာ ဖြစ်
သည်ဟုမိန့်တော်မူ၏။
၁၀ အဲဂုတ္တုလူနှင့်ဣသရေလအမိ၌ရ၍၊ ဣသရေလ
အမျိုးသားတို့နှင့်အတူလိုက်လာသော သားတ
ယောက်သည်၊တပ်ထဲမှာဣသရေလလူနှင့်ရန်
၁၁ တွေ့သခြင်း၊— နာမတော်ကိုပြစ်မှားလျက် ကျိန်
ဆဲလေ၏။ ထိုသူ၏အမိကား၊ ဒန်အမျိုး၊ ဒိဗရိ
၁၂ တို့၏ရှေလောမိတ်ဖြစ်သတည်း။— ပြစ်မှားသော
သူကို အချုပ်ထဲသို့ ဆောင် ထားခဲ့၍၊ ထာဝရ
ဘုရား၏ အလိုတော်ကိုမသိမှီ ထိန်းအောင်ချုပ်
၁၃ ထားကြ၏။— ထာဝရ ဘုရားကလည်း၊ ကျိန်ဆဲ
၁၄ သော သူကို တပ်ပြင်သို့ ဆောင် သွား၍၊ သူ၏
စကားကိုကြားသောသူအပေါင်းတို့သည်၊ သူ၏
ခေါင်းပေါ်မှာလက်ကိုတင်ပြီးမှ၊ ပရိသတ်အ
၁၅ ပေါင်းတို့သည်ကျောက်ခဲနှင့် ပစ်ကြစေ။— သင်
သည်ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
မည်မှာ၊ မိမိဘုရားသခင်ကို ကျိန်ဆဲသော သူ
၁၆ သည်၊ မိမိအပြစ်ကိုခံရမည်။— ထာဝရဘုရား၏
နာမ တော်ကို ပြစ်မှား သော သူသည်၊ အသေ
သတ်ခြင်းကိုအမှန်ခံရမည်။ပရိသတ်အပေါင်း
တို့သည်၊ ထိုသူကိုအမှန်ကျောက်ခဲနှင့်ပစ်ရကြ
မည်။အမျိုးသားချင်းဖြစ်စေ၊ တပါးအမျိုးသား
ဖြစ်စေ၊နာမတော်ကိုပြစ်မှားလျှင်၊ အသေသတ်
၁၇ ခြင်းကိုခံရမည်။— လူအသက်ကို သတ်သောသူ
သည်လည်း၊ အသေ သတ်ခြင်းကို အမှန် ခံရ
၁၈ မည်။— တိရစ္ဆာန် အသက်ကို သတ် သောသူ
သည်လည်း၊ ဥစ္စာရှင်အားတကောင်အတွက်၊
၁၉ တကောင်ကိုလျော်ရမည်။—လူသည်အိမ်နီးချင်း
ကို နာအောင် ပြုလျှင်၊ သူကို ပြုသည် အတိုင်း
၂၀ ကိုယ်ခံရမည်။— အရိုးကိုချိုးသည်အတွက်၊ အ
ရိုးချိုးခြင်းကိုငင်၊မျက်စိကိုဖျက်သည်အတွက်၊
မျက်စိ ဖျက် ခြင်းကို ငင်၊ သွားကို ချိုးသည် အ
တွက်၊ သွားချိုးခြင်းကိုငင်၊ သူကိုနာကျည်းစွာ
ပြုသည် အတိုင်း၊ ကိုယ်တိုင် နာကျည်း စွာ ခံရ
၂၁ မည်။— တိရစ္ဆာန် အသက် ကို သတ်သော သူ
သည်၊တကောင်အတွက်၊ တကောင်ကိုပြန်ပေး
ရမည်။ လူအသက်ကိုသတ်သောသူသည်၊ အ
၂၂ သေ သတ်ခြင်းကို ခံရမည်။— ကိုယ်အမျိုးသား
ဖြစ် စေ၊ သူတပါး အမျိုး သား ဖြစ်စေ၊ တပါး
တည်း သော တရား နှင့်သာ စီရင် ခြင်းကို ခံရ
မည်။ ငါသည်သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရား ဖြစ်သည်ဟု၊ မောရှေအား မိန့်တော်မူ
၂၃ ၏။— ဣသရေလ အမျိုးသားတို့သည်၊ ကျိန်ဆဲ
သောသူကိုတပ်ပြင်သို့ဆောင်သွား၍၊ ကျောက်
ခဲနှင့် ပစ်ရမည် အကြောင်း၊ မောရှေ ဆင့် ဆို
သည်ဖြစ်၍၊ ထာဝရဘုရားသည် မောရှေအား
မှာထားတော်မူသည်အတိုင်း၊ သူတို့သည်ပြုကြ
၏။

၂၅

၁ တဖန်သိနာတောင်ပေါ်မှာ၊ မောရှေအားထာ
ဝရဘုရားက၊ သင်သည်ဣသရေလအမျိုးသား
၂ တို့အားဆင့်ဆိုရမည်မှာ၊— သင်တို့သည်ငါပေး
သောပြည်သို့ရောက်သောအခါ၊ ထိုပြည်သည်
၃ ထာဝရဘုရားအဖို့ဥပုသ်စောင့်ရမည်။— ခြောက်
နှစ်ပတ်လုံး လယ်လုပ်လျက်၊ စပျစ်ဥယျာဉ်ကို
သုတ်သင်၍၊ အသီးကိုသိမ်းလျက် နေရမည်။—
၄ သတ္တမနှစ်သည်၊ထာဝရဘုရားအဖို့ဥပုသ်နှစ်၊
တပြည် လုံး ငြိမ် ဝပ် စွာ နေ၍ ဥပုသ် စောင့်ရ
သောနှစ်ဖြစ်၏၊ထယ်မထုပ်ရ၊ စပျစ်ဥယျာဉ်ကို
၅ မသုတ်သင်ရ။—ထယ်၌အလိုလိုပေါက်သောအ
သီးအနှံကိုမျှမရိတ်ရ၊ မသုတ်သင်သော စပျစ်
ဥယျာဉ် အသီးကိုမျှ မဆွတ်ရ၊ တပြည်လုံးငြိမ်
၆ ဝပ်စွာနေရသောနှစ်ဖြစ်၏။—ပြည်ဥပုသ်တည်း
ဟူသော၊ အလိုလို ဖြစ် ပွားသော အရာမှီသမျှ
သည်၊ သင်ကိုယ်မှစ၍ သင်၏ကျွန်၊ ကျွန်မ၊ သူ
၇ ငှါး၊ ဧည့်သည်စားစရာ၊—သင်၏ပြည်၌ ရှိသော
သားသည်သားရဲစားစရာဖြစ်ရမည်။
ဥပုသ်နှစ် ခုနှစ်နှစ်ကိုရေတွက်၍၊ ခုနှစ်နှစ်ခု
နှစ်ထပ်တည်းဟူသောလေးဆယ်ကိုးနှစ်စေ့ပြီး

၉ မှု– တဆယ်ယောက်ပြည့်နေ့၊ အပြစ်ဖြေခြင်းပွဲ
ရှိနေ့၌၊ ယုဘိလ တံပိုးကို တပြည်လုံးမှုတ်စေရ
၁၀ မည်၊– ငါးဆယ်မြောက်သောနှစ်ကို သန့်ရှင်း
စေသဖြင့်၊ တပြည်လုံး၌ပြည်သားအပေါင်းတို့
အား လွတ်ရာအခွင့်ကိုကြွေးကြော်ရမည်။ ယု
ဘိလနှစ်ဖြစ်၍၊ လူတိုင်းမိမိပိုင်သောမြေ၊ မိမိအ
၁၁ ဆွေအမျိုးဆီသို့ပြန်ရမည်။– ငါးဆယ်မြောက်
သော နှစ်သည်၊ ယုဘိလနှစ် ဖြစ်သောကြောင့်
အသီးမလုပ်ရ၊ အလိုလို ပေါက်သောအပင်ကိုမှ
စရိတ်ရ၊ မလုပ်ထိန်းသောစပျစ်ဥယျာဉ်အသီးကို
၁၂ မှ မရုတ်ရ။– ယုဘိလနှစ်သည်၊ သန့်ရှင်းသော
နှစ် ဖြစ်သောကြောင့်၊ လယ်၌ရသော အသီးအ
၁၃ နှံကို သာစားရမည်။– ယုဘိလနှစ်တွင်လူတိုင်း
၁၄ မိမိပိုင်သောမြေသို့ပြန်ရမည်။– သင်တို့သည်အ
ချင်းချင်းရောင်းဝယ်မှုကိုပြုလျှင် တယောက်ကို
၁၅ တယောက် မညှဉ်းဆဲရ။– ယုဘိလနှစ်လွန်၍
ကြာသောနှစ်ပေါင်း။ အသီးအနှံ သီး သော
သောနှစ်ပေါင်းကိုရေတွက်၍ရောင်းဝယ်မှုကို
၁၆ ပြုရမည်။– ထိုသို့အသီးသီးရသော နှစ်များကို
ထိုက်၍ရောင်းသောကြောင့်၊ နှစ်ပေါင်းအနည်း
အများအလိုက်၊ အဖိုးလျော့လျက်၊ တိုးလျက်
၁၇ ရောင်းဝယ်ရမည်။– သင်တို့သည် တယောက်
ကို တယောက် မညှဉ်းဆဲရ၊ သင်တို့၏ ဘုရား
သခင်ကို ကြောက်ရွံ့ရမည်၊ ငါသည်သင်တို့၏
ဘုရားသခင်ထာဝရဘုရားဖြစ်၏။
၁၈ သင်တို့သည်၊ ငါ၏ ရင်ထုံး ဖွဲ့ချက် တို့ကို ကျင့်
ဆောင်လျှင်၊ ထိုပြည်၌ဘေးလွတ်လျက် နေရကြ
၁၉ လိမ့်မည်။– မြေသည်ထည်း။ မိမိအသီးအနှံကို
ပေးသဖြင့်၊ သင်တို့သည်ဝစွာစား၍၊ ဘေးလွတ်
၂၀ လျက် နေရကြ လိမ့်မည်။– သင်တို့က ထည်း၊
သတ္တမ နှစ်တွင် ငါတို့သည် အဘယ်သို့ စားရ
မည်နည်း၊ လယ်မလုပ်ရ၊ အသီးအနှံကိုမသိမ်း
၂၁ ရပါတကားဟု ဆိုလျှင်၊– ဆဋ္ဌမနှစ်တွင်သင်တို့
ကိုငါ ကောင်းကြီးပေး၍၊ ထိုနှစ်တွင်သုံးနှစ်အဖို့
၂၂ အသီးအနှံကိုဖြစ်စေမည်၊– သင်တို့သည်အဋ္ဌမ
နှစ်တွင် လယ်လုပ်၍၊ နဝမနှစ်တွင်အသီးအနှံ
ကိုသိမ်းရာကာလတိုင်အောင်၊ ဟောင်းသောအ
သီးအနှံကိုစားရကြမည်။
၂၃ မြေကိုသူတပါးအစဉ်ပိုင်စေခြင်းငှါမရောင်း
ရ၊ မြေသည် ငါ့ဥစ္စာဖြစ်၏၊ သင်တို့သည် ငါ၌
၂၄ တည်းသောဧည့်သည်အာဂန္တုဖြစ်ကြ၏။– သင်
တို့အစဉ်မြေကိုပိုင်ရာအရပ်၌၊ ရွေးနှုတ်ရသော
၂၅ အခွင့်ကို ပေးရကြမည်။ သင်၏ အမျိုးသား
ချင်းသည်ဆင်းရဲ၍၊ မိမိပိုင်သောမြေကို ရောင်း
လျှင်မူ၊ သူ၏ပေါက်ဖော်တစုံတယောက်ထည်း
ဝယ်ခြင်းငှါလာလျှင်မူ၊ မိမိပေါက်ဖော်ရောင်း
သောဥစ္စာကို ရွေးနှုတ်ရသော အခွင့်ရှိရမည်။–
၂၆ ထိုမြေကိုရွေးနှုတ်သော သူတယောက်မျှ မပေါ်
မရှိ၍၊ မြေရှင်ထောင်သည် ကိုယ်တိုင်ရွေးနှုတ်
၂၇ နိုင်လျှင်၊– မိမိမြေသို့ပြန်ထံ့သောငှါ ရောင်း၍
လွန်သောနှစ်ပေါင်းကို ရေတွက်ပြီးမှ၊ ထိုအသ
သာသာအဖိုးကို၊ အထက်ကရောင်းခဲ့သောသူအား
၂၈ ပြန်ပေးရမည်။– ပြန်၍မပေးနိုင်လျှင်၊ ရောင်းခဲ့
သော ဥစ္စာကို ယုဘိလ နှစ် တိုင် အောင်၊ ဝယ်
သော သူထက်၌ ရှိစေရမည်၊ ယုဘိလနှစ်တွင်
ထွက်လွှတ်၍၊ အရှင်ထောင်အထံသို့ ရောက်
စေရမည်။
၂၉ မြို့ထဲ၌ ရှိသောအိမ်ကိုအိမ်ရှင် ရောင်းလျှင်၊
တနှစ်အတွင်း၌ ရွေးနှုတ်သော အခွင့် ရှိစေ
၃၀ ရမည်။– တနှစ်အတွင်း၌မရွေးနှုတ်လျှင်၊ ထို
အိမ်ကိုဝယ်သောသူမှစ၍၊ သားမြေးဆက်
တို့သည်အမြဲပိုင်ရကြမည်၊ ယုဘိလနှစ်ရောက်
၃၁ သော်သည်လက်မလွှတ်ရ။– မြို့ရိုးမရှိ၊ ရွာ၌ရှိ
သောအိမ်ကို၊ လယ်ကဲ့သို့မှတ်၍၊ ရွေးနှုတ်
ရသောအခွင့်ရှိ၏၊ ယုဘိလနှစ်ရောက်သောအ
၃၂ ခါ ထွက်လွှတ်ရမည်။– သို့ရာတွင်၊ လေဝိသား
ပိုင်သောမြို့နှင့်မြို့အိမ်တို့ကို၊ အဘယ်ကာလအ
၃၃ ရှိန်မဆိုသဲ၊ ရွေးနှုတ် ရသောအခွင့်ရှိ၏။– လေ
ဝိသားပိုင်သောမြို့ကိုငှ၊ အိမ်ကိုငှ၊ သူတပါး
ဝယ်လျှင်၊ ယုဘိလနှစ်ရောက်သောအခါ ထွက်
လွှတ်ရမည်၊ အကြောင်းမူကား၊ ဣသရေလအ
မျိုးသားတို့တွင် လေဝိသားတို့သည်၊ ကိုယ်
၃၄ နေရာမြို့အိမ်မှတပါး၊ အခြားသောဥစ္စာမရှိ။– ထို
ဆိုသော်ထည်း၊ လေဝိသား မြို့နယ်၌ ရှိသော
လယ်ယာတို့ကို မရောင်းရ၊ အစဉ်အမြဲပိုင်ရ
မည်။
၃၅ သင်၏ အမျိုး သား ချင်း သည် ဆင်း ရဲ၍၊
ထိုအားလျော့သဖြင့် တပါးအမျိုးသားဧည့်
သည်အာဂန္တုကဲ့သို့ဖြစ်လျှင်၊ ထောက်မစနေ
၃၆ ခြင်းငှါသူ့ကိုမစရမည်။– သူ၌အတိုးအပွါးကိုမ
ယူရ၊ သင်၏အမျိုးသားချင်းသည် ထောက်မစနေ
စေခြင်းငှါ၊ သင်၏ ဘုရားသခင်ကို ကြောက်ရွံ့
၃၇ လော့။– အတိုးအပွါးကိုမျှော်လင့်၍ ငွေကိုငှင်း
၃၈ စားစရာကိုငှင်း၊ သူ၌မချေးမငှါးရ။– ငါသည်၏

နှာန်ပြည်ကိုသင်တို့အားပေး၍၊ သင်တို့၏ဘုရား
သခင်ဖြစ်ထိုသောငှါ၊ သင်တို့ကိုအဲဂုတ္တုပြည်မှ
နှုတ်ဆောင်သောသင်ထိ၏ ဘုရားသခင်ထာဝ
ရဘုရားဖြစ်၏၊
၃၉ သင်၏အမျိုးသားချင်းသည်ဆင်းရဲ၍၊ သင်၌
အရောင်းခံလျှင်၊ အစေခံကျွန်ကိုပြုသကဲ့သို့ သု
၄၀ ကိုအနှိုင်မပြုရ၊- သူသည်သူငှါးကဲ့သို့၎င်း၊ဧည့်
သည်ကဲ့သို့၎င်း၊ သင့်ထံမှာ နေ၍၊ ယုဘိလနှစ်
၄၁ ထိုင်အောင် အစေခံရမည်၊- ထိုအခါ သူသည်၊
သားသမီးနှင့်တကွ ထွက်၍၊ မိမိအဆွေအမျိုး၊မိမိ
၄၂ ဘိုးဘေးပိုင်သောမြေသို့ပြန်ရမည်၊- အကြောင်း
မူကား၊ သူတို့သည် အဲဂုတ္တု ပြည်မှ ငါနှုတ်
ဆောင်သော၊ ငါ၏အမှုထမ်း ဖြစ်၍၊ အစေခံ
၄၃ ကျွန်ဖြစ်စေ ခြင်းငှါ မရောင်းရ၊- သူကိုကြမ်း
တမ်း စွာ မစီ ရင်ရ၊ သင်၏ ဘုရား သခင်ကို
၄၄ ကြောက်ရွံ့ရမည်၊- သင်သဘိစေပိုင်းသောကျွန်၊
ကျွန်မတို့ကို၊ သင့်ပတ်သည် ဝန်းကျင်တို့၌ နေ
၄၅ သော၊သာသနာပလူတို့တွင်ဝယ်ရမည်၊-ထိုမှတ
ပါး၊သင်တို့တွင်တည်းနေသောတကျွန်းတနိုင်ငံ
သားတို့ကို၎င်း၊ သင်တို့ပြည်၌သူတို့ရသောသား
၄၆ သမီးများကို၎င် ဝယ်၍ ပိုင်ရမည်၊- သူတို့သည်
ကျွန်အပေါက်ဖြစ်၍၊ သင်တို့နှင့် သင်တို့သား
သမီးတို့သည် အမွေခံ၍ ပိုင်ရမည်၊ ကိုယ်အမျိုး
သားချင်း၊တဦး၊ဟူသော၊ ဣသရေလအမျိုးသား
ဖြစ်လျှင်၊တယောက်ကိုတယောက်ကြမ်းတမ်း
စွာမစီရင်ရ၊
၄၇ သင့်အနားမှာတည်းနေသော တကျွန်းတနိုင်
ငံသားသည် ငွေရတတ်၍၊ သူ၏အနားမှာ နေ
သောသင်၏အမျိုးသားချင်းဆင်းရဲသဖြင့်၊ သင့်
အနားမှာတည်းနေသော တကျွန်းတနိုင်ငံသား၌
၎င်း၊ သူ၏ သား မြေး၌ ၎င်း၊ ကိုယ်ကို ရောင်းချ
၄၈ လျှင်၊-ရောင်းပြီးမှရွေးနှုတ်သော အခွင့်ရှိစေရ
မည်၊ မိမိအမျိုးသားတစုံတယောက်သည် ရွေး
၄၉ နှုတ်ရမည်၊- ဦးကြီး၊ ဘထွေး၊ ညီအစ်ကိုတော်
မှစ၍၊ အဆွေ အမျိုး ပေါက်ဖော်ရင်း တစုံတ
ယောက် သည် ရွေး နှုတ် ရ မည်၊ ကိုယ် တိုင်
တတ် နိုင် လျှင် သည်း၊ ကိုယ် ကို ရွေး နှုတ်ရ
၅၀ မည်၊- သခင်နှင့် ကျွန်တို့ သည်၊ ရောင်းဝယ်
သော နှစ်မှစ၍၊ ယုဘိလ နှစ်တိုင်အောင် နှစ်
ပေါင်းကိုရေတွက်ပြီးလျှင်၊ နှစ်ပေါင်းအနည်း
အများကိုထောက်၍၎င်း၊သူငှါးလုပ်ရသည်ကာ
လကိုထောက်၍၎င်း၊ကိုယ်အဖိုးကိုစီရင်ရမည်၊-
၅၁ ယုဘိလနှစ်မရောက်မှီ၊အစေခံရသောနှစ်ပေါင်း
၅၂ အနည်းအများကို ရေတွက်၍၊ လိုသေးသော
နှစ်ပေါင်း၊အနည်းအများ၊အလိုက်ရွေးရန် အဖိုး
ကို၊ဝယ်ရင်းငွေထဲက နှုတ်၍ ပြန်ပေးရမည်၊-
၅၃ ထိုသူသည် တနှစ်နောက်တနှစ်၊ သူငှါးကဲ့သို့နေ
ရမည်၊ သင့်မျက်မှောက်၌သူ့ညှဉ်းဆဲခြင်းကိုမခံ
၅၄ ရ၊- ထိုသို့သောနည်း၊ဖြင့်မရွေး မနှုတ်လျှင်၊ယု
ဘိလ နှစ်ရောက်သောအခါ၊ သူကိုသားမယား
၅၅ နှင့်တကွသခင်လက်မှလွှတ်ရမည်၊-အကြောင်း
မူကား၊ ဣသရေလအမျိုးသားတို့သည်၊ငါ၏အ
မှုထမ်း ဖြစ် ကြ၏၊ အဲဂုတ္တု ပြည်မှ ငါ နှုတ်
ဆောင်ခဲ့သော၊ ငါ၏ အမှုထမ်း ဖြစ်ကြ၏၊ ငါ
သည်သင်တို့၏ ဘုရားသခင်ထာဝရ ဘုရားဖြစ်
၏၊

၂၆

၁ သင်တို့သည် ကိုယ်အဖို့ ရုပ်တုဆင်းတုကို မရှိစေရ၊ သင်တို့ပြည်၌ ကိုးကွယ်
စရာမှတ်တိုင်ကိုမစိုက်ရ၊ ရုပ်သောကျောက်ကို
ထောင်၍ မထားရ၊ ငါသည် သင်တို့၏ဘုရား
၂ သခင်ထာဝရ ဘုရားဖြစ်၏၊- ငါ့ဥပုသ်နေ့တို့ကို
စောင့်၍၊ သန့်ရှင်းရာ ဌာနတော်ကို ရိုသေ ရ
မည်၊ငါကားထာဝရဘုရားဖြစ်၏၊
၃ သင်တို့သည်၊ ငါ့တရားလမ်းသို့လိုက်၍၊ ငါ့
၄ ပညတ်တို့ကိုကျင့်စောင့်လျှင်၊- အချိန်တန်မှ ငါ
သည်သင်တို့အမိုးမိုးရွာစေသဖြင့်၊ မြေသည်
မိမိအကျိုးကိုပေး၍၊ ဥယျာဉ်အပင်တို့သည်အ
၅ သီးသီးကြလိမ့်မည်၊- စပါးနင်းနယ်သော အမှု
သည်၊စပျစ်သီးညှစ်ရာကာလတိုင်အောင်၎င်း၊စ
ပျစ်သီးညှစ်သောအမှုသည်၊မျိုးစေ့ကြဲရာကာလ
တိုင်အောင်၎င်းရှိသဖြင့်၊ သင်တို့သည် ဝစွာစား
၍၊ ကိုယ်ပြည်၌ ဘေးလွတ်လျက်နေရကြလိမ့်
၆ မည်၊-သင်တို့ပြည်၌စစ်မှုကိုငါငြိမ်းစေ၍၊ခြိမ်း
ခြောက်သောသူမရှိဘဲ၊ သင်တို့သည်အိပ်ရကြ
လိမ့်မည်၊ဆိုးသောသားရဲတို့ကိုလည်းငါပယ်
ရှားမည်၊ တပြည်လုံးသည် ထားဘေးနှင့်ကင်း
၇ လွတ်လိမ့်မည်၊- သင်တို့သည်ရန်သူများကိုလိုက်
၍၊ ထား ထက်နက်ဖြင့် လောင်ကြလိမ့်မည်၊-
၈ သင်တို့တွင်လူငါးယောက်သည်၊ရန်သူအရာကို
လိုက်လိမ့်မည်၊ လူတရာသည်ရန်သူတသောင်း
ကို ပြေးစေ၍၊ ထား ထက်နက်ဖြင့် လောင်ကြ
၉ လိမ့်မည်၊-သင်တို့ကိုငါစောင့်မသဖြင့် ထိုးပွား
များပြားစေ၍၊ သင်တို့နှင့်ငါပြုသောပဋိညာဉ်

၁၀ ကိုငါမြဲမြဲစေမည်။-ထိုထားသောစပါးဟောင်း
ကိုစား၍မကုန်မှီ၊ စပါးသစ်ပေါ်သော့ကြောင့်၊
၁၁ အဟောင်းကို ထုတ်ရကြမည်။-ငါသည် စက်
ဆုပ်ရွံရှာခြင်းမရှိဘဲ၊ သင်တို့တွင် ထဲတော်ကို
၁၂ ထည်မည်။- သင်တို့တွင်လည်း ဗျည့်ထည်၍၊
သင်တို့၏ ဘုရား သခင်ဖြစ်မည်၊ သင်တို့သည်
၁၃ ထည်း၊ငါ၏လူဖြစ်ကြလိမ့်မည်။-အဲဂုတ္တုပြည်
၌ အစေကျွန် ခံရသော သင်တို့ကို ငါ လွှတ် ၍၊
ရှုတ်ဆောင်သောသင်တို့၏ ဘုရားသခင်ထာဝရ
ဘုရားဖြစ်၏၊ သင်တို့၏ထမ်းတိုးကြိုးကိုငါဖြတ်
၍၊သင်တို့ကိုတည့်မတ်စေပြီ၊

၁၄ သင်တို့သည်၊ ငါ့စကားကိုနားမထောင်၊ ဤ
၁၅ ပညတ်အလုံးစုံကိုမစောင့်၊- ငါ့ဓိရင်ထုံးဖွဲ့ချက်
များကို ရွံရှာ၍၊ မထိမဲ့မြင်ပြုလျက်၊ ငါ့ပညတ်
တရားကို မကျင့်၊ ငါ့ပဋိညည် သစ္စာကို ဖျက်
၁၆ လျှင်၊-သင်တို့၌ငါပြုထတ့်သော အမှုဟူမူကား၊
သင်တို့၌ မျက်စိပျက်လျှက်၊ စိတ်ပူပန်လျက်မှ
ဆဲခြင်းငှါ၊ ထိတ်လန့်သော သဘော၊ တူထာ၊
ဖျားနာတို့ကိုသင်တို့အပေါ်မှာငါခန့်ထားမည်၊
သင်တို့သည်မျိုးစေ့ကို ကြဲသော်လည်း၊ အကျိုး
မရှိ၊ ရန်သူတို့သည်အသီးအနှံ ကို စားကြလိမ့်
၁၇ မည်၊-သင်တို့ကိုငါမျက်နှာထား၍၊ ရန်သူရှေ့
မှာဆုံးစေမည်၊ သင်တို့သည် ရန်သူ၏ ထုပ်ချုပ်
ခြင်းကို ခံရ၍၊ အဘယ် သူမျှ မလိုက် သော်
၁၈ ထည်း၊ ပြေးကြလိမ့်မည်။- ထိုမျှလောက် ခံရ
သော်လည်း၊ ငါ့စကားကို နားမထောင်ဘဲ နေ
သေးလျှင်၊ သင်တို့အပြစ်ကြောင့် ခုနစ်ဆသော
၁၉ ဒါဏ်ကိုငါပေးဦးမည်၊-သင်တို့မာနအစွယ်ကို
ငါချိုးမည်၊ မိုဃ်းကောင်းကင်ကိုသံကဲ့သို့ငှင်၊
မြေကြီးကိုကြေးဝါကဲ့သို့ငှင်၊ ငါဖြစ်စေသဖြင့်၊-
၂၀ သင်တို့သည်အချည်းနှီးကြိုးစားအားထုတ်ကြ
လိမ့်မည်၊သင်တို့မြေသည်မိမိအသီးအနှံကိုမပေး၊
ဥယျာဉ်အပင်တို့သည်အသီးမသီးကြ၊

၂၁ သင်တို့သည်၊ ငါ့စကား ကို နား မထောင်၊
ငါ့ကို ဆန့်ကျင်ဘက် ပြုလျှင်၊ သင်တို့အပြစ်အ
လျောက် ခုနစ်ဆသော ဘေးကြီး ကို ငါ သက်
၂၂ ရောက်စေမည်။- သင်တို့၏ သားသမီးများကိုမှီ
သွား၍၊ သင်တို့၏ တိရိစ္ဆာန်များကို ဖျက်ဆီး
လျက်၊သင်တို့ကိုနည်းစေခြင်းငှါ၊သားရဲများကို
ငါစေလွှတ်သဖြင့်၊ သင်တို့ သွားရာလမ်းမ တို့
၂၃ သည်၊လူဆိတ်ညံ့ရာဖြစ်ကြလိမ့်မည်။- ထိုသို့ခံ
ရသော်လည်း၊ သင်တို့သည်သတိမရ၊ငါ့ကိုဆန့်

၂၄ ကျင်ဘက်ပြုသေးလျှင်၊-ငါသည်လည်းသင်တို့
ကိုဆန့်ကျင်ဘက်ပြု၍၊ သင်တို့အပြစ်ကြောင့်ခု
၂၅ နစ်ဆသော ဒါဏ်ကိုပေးဦးမည်။- ငါ့ပဋိညည်
ဘက်၌နေ၍၊ တရားစီရင်ရသောထားဘေးကို
သင်တို့အပေါ်မှာငါသက်ရောက်စေမည်၊သင်
တို့သည် မြို့ထဲ၌ စုဝေးသော အခါ၊ ကာလနာ
ဘေးကို ငါစေလွှတ်၍၊ ရန်သူလက်သို့ ရောက်
၂၆ စေမည်။- သင်တို့၏အစာအာဟာရအထောက်
အပင့်ကိုငါပယ်ရှားသောအခါ၊ မိန်းမတကျိပ်တို့
သည်သင်တို့၏မုန့်ကို၊ မီးဖိုတမိုး၌ဖုတ်ပြီးမှ၊ထို
မုန့်ကိုချိန်ပေးသဖြင့်သင်တို့သည် ဝစွာမစားရ
၂၇ ကြ။- ထိုမျှလောက်ခံရသော်လည်း၊ငါ့စကားကို
နားမထောင်၊ငါ့ကိုဆန့်ကျင်ဘက်ပြုသေးလျှင်၊-
၂၈ ငါသည်လည်းအမျက်ထွက်၍၊ သင်တို့ကိုဆန့်
ကျင်ဘက်ပြုသဖြင့်၊သင်တို့အပြစ်ကြောင့်ခုနစ်
၂၉ ဆသော ဒါဏ် ကို ပေးဦး မည်၊- သင်တို့သည်
ကိုယ် သားသမီး တို့၏ အသားကိုစားရကြလိမ့်
၃၀ မည်။- သင်တို့မြင့်သောအရပ်များကိုငါဖြိုဖျက်
၍၊ ရုပ်တုဆင်းတုများကိုခုတ်လှဲမည်၊ သင်
တို့အသေကောင်များကို၊ရုပ်တုဆင်းတုအသေ
ကောင်အပေါ်မှာပုံစုချ၍၊ သင်တို့ကိုစက်ဆုပ်ရွံ
၃၁ ရှာမည်။- သင်တို့မြို့များကိုငါဖျက်ဆီး၍၊သန့်
ရှင်းရာဌာနတော်ကိုသုတ်သင်ပယ်ရှင်းသဖြင့်၊
သင်တို့နံ့သာပေါင်းအငွေ့အကြိုင်ကိုငါမနမ်း။-
၃၂ တပြည်လုံးကို ငါသုတ်သင်ပယ်ရှင်းသောအမှု
ကို၊ထိုပြည်၌နေသောသင်တို့၏ရန်သူတို့သည်
၃၃ မြင်၍၊ မိန်းမောတွေဝေ ကြလိမ့်မည်။- သာသ
နာပလူတို့တွင်သင်တို့ကိုအရပ်ရပ်ငါကွဲပြားစေ
၍၊ထားနိုးလျက်လိုက်မည်၊ သင်တို့ပြည်သည်
ထည်း၊လူဆိတ်ညံ့လျက်၊မြို့သည်ထည်းပျက်စီး
၃၄ လျက်ရှိလိမ့်မည်။- ထိုသို့ သင်တို့သည် ရန်သူ
ပြည်၌နေ၍၊ ကိုယ်ပြည်သည်လူဆိတ်ညံ့လျက်
နေသောကာလပတ်လုံး ငြိမ်ဝပ်စွာနေ၍၊ မိမိဥ
၃၅ ပုသ်နေ့တို့၌မွေ့လျော်ရလိမ့်မည်။- လူဆိတ်ညံ့
လျက် နေရသော ကာလပတ်လုံး ငြိမ်ဝပ်လိမ့်
မည်။သင်တို့ရှိနေသောအခါ၊ဥပုသ်နေ့တို့၌ပြည်
၃၆ သည်မငြိမ်မဝပ်ရ၊- ရန်သူပြည်မှာကျန်ကြွင်း
သေသောသင်တို့စိတ်နှစ်လုံးထဲသို့၊ ထိတ်လန့်သော
သဘောကိုငါပေးသွင်းသဖြင့်၊သစ်ရွက်လှုပ်သံ
ကြောင့် သင်တို့သည် ကြောက်၍၊ ထားဘေးမှ
ပြေးသကဲ့သို့ ပြေးကြလိမ့်မည်၊ အဘယ်သူမျှမ
၃၇ ဒိုက်သော်သည်း၊လဲကြလိမ့်မည်။- အဘယ်

သူမှုမထိုက်ထဲ ထားထေး၄ပြေးသောသူကဲ့သို့၊
တယောက် အပေါ်မှာ တယောက် ထဲကြလိမ့်
မည်၊ ရန်သူရှေ့မှာရပ်နိုင်သောတန်ခိုးမရှိရ။-
၃၈ ရန်သူပြည်သည်၊သင်တို့ကိုမျိုစား၍၊သာသနာ
၃၉ ပလူတို့တွင် ဆုံးရှုံး ကြလိမ့်မည်။- ကျန်ကြွင်း
သောသင်တို့သည်၊ ရန်သူပြည်၌ ကိုယ်အပြစ်၊
ဘိုးဘ တို့ အပြစ်ကို ခံလျက်၊ ထိုးထနှင့် တကွ
အားလျော့ကြလိမ့်မည်။
၄၀ သို့ရာတွင်၊ သူတို့သည်ငါ့ကိုပြစ်မှား၍၊ ငါ့ကို
၄၁ ဆန့်ကျင်ဘက်ပြုသောအကြောင့်၊-ငါသည်သူတို့
ကိုဆန့်ကျင်ဘက်ပြု၍၊ရန်သူပြည်သို့ပို့ဆောင်
သော အကြောင်းများနှင့်တကွ၊ ကိုယ်အပြစ်၊
ဘိုးဘတို့အပြစ်များကို လော်ပြတောင်းပန်လျှင်
၄င်း၊ အရေဖျားလှီးခြင်းကို မခံသော မိမိတို့နှစ်
လုံးကိုနှိမ့်ချ၍၊ မိမိတို့ အပြစ်ကြောင့် ခံရသော
၄၂ ဒါဏ်ကိုဝန်ခံလျှင်၄င်း၊- ငါသည် ယာကုပ်နှင့်
ပြုသော ပဋိညည်၊ ဣဇာက် နှင့် ပြုသော ပဋိ
ညည်၊အာဗြဟံနှင့်ပြုသောပဋိညည်ကို၄င်း၊ထို
၄၃ ပြည်ကို၄င်းငါအောင်းမေ့မည်။- ထိုပြည်သည်
သူတို့ ထက်မှလွတ်၍၊ သူတို့မရှိဘဲ လူဆိတ်ညံ
လျက်နေစဉ်တွင်၊ မိမိဥပုသ်နေ့တို့၌ မွေ့လျော်
လိမ့်မည်၊ သူတို့သည်ငါ၏ရင်ထုံးဖွဲ့ချက်များကို
ရွံရှာ၍၊ မထိမဲ့မြင် ပြုသောအပြစ်ကြောင့်၊ ခံရ
၄၄ သောဒါဏ်ကိုဝန်ခံရကြလိမ့်မည်။-သို့ရာတွင်၊
ရန်သူပြည်၌နေကြသောအခါ၊သူတို့ကိုရှင်းရှင်း
ပျက်ဆီး၍၊ သူတို့နှင့် ငါပြုသော ပဋိညည်ကို
ပယ်သည်တိုင်အောင်သူတို့ကိုငါမစွန့်ပြစ်၊မရွံ
ရှာ၊ ငါသည်သူတို့၏ဘုရားသခင်ထာဝရဘုရား
၄၅ ဖြစ်၏။- ငါသည် သူတို့၏ ဘုရားသခင် ဖြစ်ခဲ့
သောငှါ၊ သာသနာပလူတို့ မျက်မှောက်၌၊ အဲ
ဂုတ္တုပြည်မှငါနှုတ်ဆောင်သောသူတို့ဘိုးဘေး
နှင့် ငါပြုသော ပဋိညည်ကို၊ သူတို့ အတွက် ငါ
အောင်းမေ့မည်၊ ငါသည် ထာဝရဘုရား ဖြစ်
၄၆ သည်ဟု မိန့်တော်မူ၏။- ဤ ရွေကား၊ ထာဝရ
ဘုရားသည်၊ သိနာတောင်ပေါ်မှာ ဣသရေလ
အမျိုး သားတို့ အဖို့ မောရှေ ထက် တွင်၊ ထား
တော်မူသောစီရင်ထုံးဖွဲ့ချက်ပညတ်တရားဖြစ်
ထတည်း။

၂၇

၁ ထပ်၍ မောရှေအား ထာဝရ ဘုရားက၊ သင်
သည် ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
၂ မည်မှာ၊- လူသည်သစ္စာဂတိပြု၍ပူဇော်လျှင်၊
ပူဇော်အပ်သောသူသည်၊ သင်အဘိုးဖြတ်သည့်
အတိုင်း၊ထာဝရဘုရား၏ အဖို့ဘာ တော် ဖြစ်ရ
၃ မည်။- သင်သည်အထယ်မှ အဘိုးဖြတ်ရမည်
နည်းဟူမူကား၊ ယောကျ်ားကိုအသက်နှစ်ဆယ်
မှသည်၊ခြောက်ဆယ်တိုင်အောင်၊အကျပ်တော်
အလိုက် ငွေအကျပ် ငါးဆယ်နှင့် အဖိုးဖြတ်ရ
၄ မည်။- မိန်းမဖြစ်လျှင်၊ငွေအကျပ်သုံးဆယ်နှင့်အ
၅ ဖိုးဖြတ်ရမည်။-အသက်ငါးနှစ်မှသည်၊နှစ်ဆယ်
တိုင်အောင်၊ယောကျ်ားကို အကျပ် နှစ်ဆယ်၊
မိန်းမကို အကျပ်တဆယ် နှင့် အဖိုးဖြတ်ရမည်။-
၆ အသက် တလ မှ သည်၊ ငါး နှစ် တိုင်အောင်၊
ယောကျ်ားကို ငွေငါးကျပ်၊ မိန်းမကို သုံးကျပ်နှင့်
၇ အဖိုးဖြတ်ရမည်။- အသက်ခြောက်ဆယ်လွန်
လျှင်၊ ယောကျ်ားကို ဆယ်ငါးကျပ်၊ မိန်းမကိုတ
၈ ဆယ်နှင့် အဖိုး ဖြတ်ရမည်။- သင် အဖိုး ဖြတ်
သည်အတိုင်းမတတ်နိုင်လျှင်၊ယဇ်ပုရောဟိတ်
ထံသို့ ချည်းကပ်၍၊ ယဇ်ပုရောဟိတ် သည်၊
သစ္စာဂတိ ပြုသောသူတတ်နိုင်သမျှ အတိုင်း
အဖိုးဖြတ်ရမည်။
၉ လူသည် တိရစ္ဆာန်ကိုထာဝရဘုရားအားပူ
ဇော်လျှင်၊ပူဇော်သမျှ သည် သန့်ရှင်းရမည်။-
၁၀ ကောင်းသည်ဖြစ်စေ၊ညံ့သည်ဖြစ်စေ၊တကောင်
အတွက်၊ တကောင်ကိုမလဲရ၊ လဲလိုလျှင်၊ နှစ်
၁၁ ကောင် စလုံး သန့်ရှင်းရမည်။- ထာဝရ ဘုရား
အားမပူဇော်အပ်၊မစင်ကြယ်သော တိရစ္ဆာန်
၁၂ ဖြစ်လျှင်၊ ယဇ်ပုရောဟိတ်အားပြ၍၊-ကောင်း
မကောင်းရှိသည်အလျောက်၊ ယဇ်ပုရောဟိတ်
အဖိုး ဖြတ်ရမည်၊ယဇ်ပုရောဟိတ် ဖြတ်သည့်
၁၃ အတိုင်း၊အဖိုးရှိရမည်။- ပူဇော်သောသူသည်
ရွေးလိုလျှင်၊ အဖိုးရင်းနှင့် ငါးစုတစုကိုထပ်၍
ပေးရမည်။
၁၄ လူသည်မိမိအိမ်ကို၊ ထာဝရဘုရားအဖို့သန့်
ရှင်း စေ လျှင်၊ ကောင်း မ ကောင်း ရှိ သည် အ
လျောက်၊ ယဇ် ပုရောဟိတ်အဖိုးဖြတ် ရမည်၊
ယဇ်ပုရောဟိတ်ဖြတ်သည်အတိုင်း၊ အဖိုးရှိရ
၁၅ မည်။- ထိုအိမ်ကို သန့်ရှင်းစေသောသူ ရွေးလို
လျှင်၊ဖြတ်သောအဖိုးရင်းနှင့်ငါးစုတစုကိုပေး
၍အိမ်ကိုယူရမည်။
၁၆ လူသည် ကိုယ်ပိုင်သောအမွေမြေကို၊ ထာ
ဝရဘုရားအဖို့သန့်ရှင်းစေလျှင်၊ စပါးမျိုးစေ့
ကြဲရသည်အတိုင်း၊ အဖိုးဖြတ်ရမည်။ မျိုးစေ့ဗ
ယော စ ကြဲရသော မြေကို၊ ငွေ အကျပ် ငါး

၁၇ ဆယ်နှင့်အမိုးဖြတ်ရမည်၊– ယုဘိလနှစ်မှစ၍
မိမိ လယ်ကို သန့်ရှင်း စေလျှင်၊ ဖြတ်သည် အ
၁၈ တိုင်း အမိုးရှိရမည်၊– ယုဘိလနှစ် လွန်မှမိမိ
လယ်ကိုသန့်ရှင်းစေလျှင်၊ နောင်ယုဘိလနှစ်မှီ
အောင်ကြွင်းသေးသော နှစ်ပေါင်းကို၊ ယဇ်ပုရော
ဟိတ် ရေတွက်၍ ဖြတ်သော အမိုးရင်း ငွေကို
၁၉ လျှော့ရမည်၊– မိမိလယ်ကိုသန့်ရှင်းစေသောသူ
သည်ရွေးလိုလျှင်၊ဖြတ်သောအမိုးရင်းနှင့်ငါးစု
၂၀ တစုကိုပေး၍၊ လယ်ကိုအပိုင်ယူရမည်၊– သို့မ
ဟုတ်၊ လယ်ကိုမရွေးလို၊ အခြားသောသူအား
ရောင်းမိလျှင်၊နောက်တဖန်မရွေးရ၊– ယုဘိလ
နှစ်တွင် ထို လယ်သည် အမှု လွှတ်သော အခါ၊
ကျိန်ဆိုသောလယ်ကဲ့သို့၊ ထာဝရဘုရား အား
သန့်ရှင်း၍၊ယဇ်ပုရောဟိတ်၏ဥစ္စာဖြစ်ရမည်၊–
၂၂ ထိုသည်ကိုယ်ပိုင်ရင်းမဟုတ်၊ဝယ်သောလယ်
ထသကို ထာဝရဘုရားအဖို့ သန့်ရှင်း စေလျှင်၊–
၂၃ ယုဘိလနှစ် တိုင်အောင် ဖြတ်သော အမိုးကို၊
ယဇ်ပုရောဟိတ်ရေတွက်၍၊ ထာဝရဘုရားအ
ဖို့သန့်ရှင်းစေသောနေ့၌၊အမိုးဖြတ်သောငွေကို
၂၄ ပေးရမည်၊– ယုဘိလနှစ်ရောက်သောအခါ၊ထို
လယ်ကို အရင်ပိုင်၍ ရောင်းသောသူ ထံသို့
၂၅ ပြန်စေရမည်၊– အမိုးဖြတ်လေရာရာ၌ အကျပ်
တော်အလိုက်ဖြတ်ရမည်၊ အကျပ်ကား၊ ဂေရ
နှစ်ဆယ်ဖြစ်သတည်း။
၂၆ ထာဝရဘုရားပိုင်ထိုက်သောတိရိစ္ဆာန်သား
ဦးကို၊ အဘယ်သူမျှ မသန့်ရှင်းစေရ၊ နွားဖြစ်
စေ၊သိုးဆိတ်ဖြစ်စေ၊ထာဝရဘုရားဥစ္စာဖြစ်၏–
၂၇ မစင်ကြယ်သောတိရိစ္ဆာန်ဖြစ်လျှင်၊အမိုးဖြတ်
သည်အတိုင်းရွေး၍၊ ငါးစုတစုကိုထပ်၍ပေးရ
မည်၊ မရွေးလိုလျှင်၊ အမိုး ဖြတ်သည်အတိုင်း
ရောင်းရမည်၊
၂၈ သို့ရာတွင်၊လူဖြစ်စေ၊တိရိစ္ဆာန်ဖြစ်စေ၊ကိုယ်
ပိုင်ရင်းလယ်ဖြစ်စေ၊ ထာဝရဘုရားအား ကျိန်
ဆို၍ ပူဇော်သမျှကို မရောင်းမရွေးရ၊ ကျိန်ဆို
၍ပူဇော်သမျှတို့သည်၊ ထာဝရဘုရားအား အ
၂၉ လွန် သန့်ရှင်းရမည်၊– လူကိုပင်ကျိန်ဆို၍ ပူ
ဇော်လျှင်၊နောက်တဖန်မရွေးရ၊သတ်ရမည်၊
၃၀ စပါးဖြစ်စေ၊ သစ်သီးဖြစ်စေ၊မြေက ဖြစ်သမျှ
သော အသီးအနှံ ဆယ်စု တစုသည်၊ ထာဝရ
ဘုရား၏အဖွာဘတော်ဖြစ်၏၊ ထာဝရဘုရားအ
၃၁ ဖို့သန့်ရှင်းရမည်၊–ဆယ်စုတစုကိုရွေးလိုလျှင်၊
အမိုးရင်းနှင့် ငါးစုတစုကိုထပ်၍ ပေးရမည်–
၃၂ နွားဖြစ်စေ၊သိုးဆိတ်ဖြစ်စေ၊ ကြိမ်လုံးအောက်
၌သွားသမျှသော အကောင်ဆယ်စု တစုသည်၊
၃၃ ထာဝရဘုရားအဖို့သန့်ရှင်းရမည်၊–ကောင်းသ
လော၊ညံ့သလောဟုမမေးမစစ်ရ၊ တကောင်အ
တွက်၊ တ ကောင် ကို မလဲရ၊ လဲလို လျှင်၊ နှစ်
ကောင်စလုံး၊ သန့်ရှင်းရမည်၊ အလျှင်း မရွေးရ
၃၄ ထု မိန့်တော်မူ၏၊– ဤရွေကား၊ ထာဝရဘုရား
သည်၊သိနာတောင်ပေါ်မှာ ဣသရေလ အမျိုး
သား တို့ အဖို့၊ မောရှေ၌ ထား တော်မူသော
ပညတ်တော်များဖြစ်သတည်း။

ရှင်မောရှေစီရင်ရေးထားသောဝတ်ပြုရာကျမ်းပြီး၏။

---

# တောလည်ရာကျမ်း။

## NUMBERS.

၁

၁ ဣသရေလအမျိုးသားတို့သည်၊ အဲဂုတ္တုပြည်မှထွက်၍၊ဒုတိယနှစ်၊ဒုတိယလ၊ပဌမနေ့၌သိ
နာတောတွင်၊ပရိသတ်စည်းဝေးရာထဲတော်မှာ
ထာဝရဘုရားသည်၊ မောရှေအား မိန့်တော်မူ
၂ သည်ကား၊–သင်နှင့်အာရုန်သည်၊ ဣသရေလ
၃ အမျိုး သား ပရိသတ် တို့ တွင်၊ အသက် နှစ်
ဆယ်လွန်၍ စစ်ထိုက်နိုင်သော ယောကျာ်း အ
ပေါင်းတို့ကို၊ သူတို့အဆွေအမျိုး အသီးအသီး
အလိုက်၊ စာရင်း ယူလျက်၊ တပ်ခင်း ကျင်း၍
၄ ရေတွက်ထော့၊– အမျိုးအနွယ် အသီးအသီး
တမျိုး တယောက်စီ၊ မိမိတို့ အဆွေ အမျိုး၌သူ
ကြီးဖြစ်သောလူတို့သည်၊ သင်တို့နှင့်အတူ ရှု
၅ ညြ်၍၊ထိုအမှုကိုဆောင်ရကြမည်၊– သင်တို့နှင့်

အထူ ထူးကြီး၍ အမှုကို ဆောင်ရသော သူ တို့မှ
၆ သား၊ ရှုမောင်အမျိုး၌ ရှုရိရှဒဲ၏သား ရှေလုမျေလ၊ ယုဒ
၇ အမျိုး၌ အမိနဒပ်၏သား နာရှုန်၊ ဣသခါအမျိုး၌ ဇု
၈ အာ၏သား နာသနေလ၊ ဇာဗုလုန်အမျိုး၌ ဟေ
၉ လုန်၏သား ဧလျာဗ၊ ယောသပ်၏သားတွင်၊ ဧဖ
၁၀ ရိမ်အမျိုး၌ အမိဟုဒ်၏သား ဧလိရှမာ၊ မနာရှေအ
မျိုး၌ ပေဒါဇုရ၏သား ဂါမလျေလ၊ ဗင်္ယာမိန်အ
၁၁ မျိုး၌ ဂိဒေါနိ၏သား အဘိဒန်၊ ဒန်အမျိုး၌ အမိရှဒဲ
၁၂ ၏သား အဟေဇာ၊ အာရှာအမျိုး၌ ဩကရန်၏သား
၁၃ ပါဂျေလ၊ ဂဒ်အမျိုး၌ ဒွေလ၏သား ဧလျာသပ်၊
၁၄၊၁၅ နဿလိအမျိုး၌ ဧနန်၏သား အဟိရတည်း။ ဤ
၁၆ သူတို့သည်၊ ပရိသတ်တွင် ကျော်စောသောသူ၊
အဆွေအမျိုး သူကြီးမင်း ဖြစ်၍၊ ဣသရေလ အ
မျိုး၌ ထောင် မီးချုပ်ရသော သူဖြစ် ကြသ
တည်း။
၁၇ ထိုသို့ နာမည်ဖြင့် ရွေးတော်မူသော ထိုသူတို
၁၈ ကို မောရှေနှင့်အာရုန်သည်ခေါ်၍၊ ဒုတိယလ၊
ပဌမနေ့၌ ပရိသတ်အပေါင်းကို စည်းဝေးစေ
ပြီးမှ၊ အဆွေအမျိုး စာရင်းကိုဖော်ပြ၍၊ အနှစ်
နှစ်ဆယ် လွန်သော သူတို့၏ နာမည် ပေါင်းကို
၁၉ မှတ်သဖြင့်၊ ထာဝရဘုရားသည်မောရှေအား
မှာထားတော်မူသည်အတိုင်း၊ သိနာတော၌ ဣ
၂၀ သရေလ အမျိုးသားတို့ကိုရေတွက်လေ၏။ ဣ
သရေလ၏သားဦး ရုဗင်၏အမျိုးသားတို့တွင်၊
အဆွေ အမျိုး၊ အသီး အသီး လိုက်၍၊ နာမည်
များ ကို စာရင်း၌ မှတ် ထား သည် အ တိုင်း၊-
၂၁ အသက် နှစ်ဆယ် လွန်၍ စစ် တိုက် နိုင် သော
ယောက်ျားပေါင်း၊ လေးသောင်း ခြောက်ထောင်
၂၂ ငါးရာရှိကြ၏။- ရှိမောင် အမျိုး သားတို့တွင်၊ အ
ဆွေအမျိုး အသီးအသီးလိုက်၍၊ နာမည်များကို
၂၃ စာရင်း၌မှတ်သားသည်အတိုင်း၊- အသက် နှစ်
ဆယ် လွန် ၍ စစ် တိုက် နိုင် သော ယော ကျ်ား
ပေါင်း၊ ငါးသောင်း ကိုးထောင် သုံးရာရှိကြ၏။-
၂၄ ဂဒ်အမျိုးသားတို့တွင်၊ အဆွေအမျိုး အသီးအ
သီးလိုက်၍၊ နာမည်များကို စာရင်း၌မှတ်သား
၂၅ သည် အတိုင်း၊- အသက် နှစ်ဆယ် လွန်၍ စစ်
တိုက်နိုင်သောယောကျ်ားပေါင်း၊ လေးသောင်း
၂၆ ငါးထောင်ခြောက်ရာငါးဆယ်ရှိကြ၏။- ယုဒအ
မျိုး သား တို့တွင်၊ အဆွေ အမျိုး၊ အသီး အသီး
လိုက်၍၊ နာမည် များ ကို စာရင်း၌ မှတ် ထား
၂၇ သည် အတိုင်း၊- အသက် နှစ်ဆယ်လွန်၍ စစ်
တိုက်နိုင်သောယောကျ်ားပေါင်း၊ ခုနစ်သောင်း
လေးထောင်ခြောက်ရာရှိကြ၏။- ဣသခါအမျိုး
သားတို့တွင်၊ အဆွေအမျိုး အသီးအသီး လိုက်
၍၊ နာမည်များကို စာရင်း၌ မှတ်ထားသည်အ
၂၈ တိုင်း၊- အသက် နှစ်ဆယ် လွန်၍၊ စစ်တိုက် နိုင်
သော ယော ကျ်ား ပေါင်း၊ ငါး သောင်း လေး
၂၉ ထောင်လေးရာရှိကြ၏။- ဇာဗုလုန် အမျိုးသား
တို့တွင်၊ အဆွေအမျိုး အသီးအသီးလိုက်၍၊ နာ
မည်များကိုစာရင်း၌ မှတ်ထားသည်အတိုင်း၊-
၃၀ အသက် နှစ်ဆယ် လွန်၍ စစ် တိုက် နိုင် သော
ယောကျ်ားပေါင်း၊ ငါးသောင်းခုနစ်ထောင်လေး
၃၁ ရာရှိကြ၏။- ယောသပ်မှ ဆင်းသက်သော ဧဖ
ရိမ်အမျိုးသားတို့တွင်၊ အဆွေအမျိုး အသီးအ
သီးလိုက်၍၊ နာမည်များကို စာရင်း၌မှတ်ထား
၃၂ သည်အတိုင်း၊- အသက် နှစ်ဆယ် လွန်၍ စစ်
တိုက်နိုင်သောယောကျ်ားပေါင်း၊ လေးသောင်း
၃၃ ငါးရာရှိကြ၏။- မနာရှေအမျိုးသားတို့တွင်၊ အ
ဆွေ အမျိုး၊ အသီး အသီးလိုက်၍၊ နာမည် များ
၃၄ ကိုစာရင်း၌ မှတ်သားသည်အတိုင်း၊- အသက်
နှစ်ဆယ် လွန်၍ စစ်တိုက်နိုင်သော ယောကျ်ား
ပေါင်း၊ သုံးသောင်း နှစ်ထောင် နှစ်ရာရှိကြ၏။-
၃၅ ဗင်္ယာမိန် အမျိုးသားတို့တွင်၊ အဆွေအမျိုး အ
သီး အသီး လိုက် ၍၊ နာမည် များကို စာရင်း၌
၃၆ မှတ်သားသည်အတိုင်း၊-အသက်နှစ်ဆယ်လွန်
၍ စစ်တိုက် နိုင် သော ယောကျ်ား ပေါင်း၊ သုံး
၃၇ သောင်းငါးထောင် လေးရာရှိကြ၏။- ဒန်အမျိုး
သားတို့တွင်၊ အဆွေအမျိုး၊ အသီးအသီးလိုက်
၍၊ နာမည်များကို စာရင်း၌ မှတ်သားသည်အ
၃၈ တိုင်း၊- အသက် နှစ်ဆယ် လွန်၍ စစ်တိုက်နိုင်
သော ယောကျ်ား ပေါင်း၊ ခြောက် သောင်း နှစ်
၃၉ ထောင်ခုနစ်ရာရှိကြ၏။-အာရှာအမျိုးသားတို့
တွင်၊ အဆွေအမျိုး အသီးအသီးလိုက်၍၊ နာမည်
၄၀ များကိုစာရင်း၌ မှတ်သားသည် အတိုင်း၊- အ
သက် နှစ် ဆယ် လွန် ၍ စစ် တိုက် နိုင် သော
ယောကျ်ားပေါင်း၊ လေးသောင်း တထောင်ငါး
၄၁ ရာရှိကြ၏။-နဿလိအမျိုးသားတို့တွင်၊ အဆွေ
အမျိုး အသီးအသီးလိုက်၍၊ နာမည်များကိုစာ
၄၂ ရင်း၌ မှတ် သား သည်အတိုင်း၊- အသက် နှစ်
ဆယ် လွန် ၍ စစ် တိုက် နိုင် သော ယော ကျ်ား
ပေါင်း၊ ငါးသောင်း သုံးထောင် လေး ရာရှိ ကြ
၄၃ ၏။- ထိုသို့မောရှေနှင့်အာရုန်အစရှိသောဣသ
ရေလအမျိုး၌အဆွေအမျိုးသူကြီးဖြစ်သော[illegible]

၄၅ ဆယ်နှစ်ပါးတို့သည်။- ဣသရေလအမျိုးသား
အပေါင်းတို့ကို၊ ဘိုးဘွားအမျိုးအလိုက်ရေတွက်
၄၆ ၍၊စာရင်းယူသည်အတိုင်း၊- အသက်နှစ်ဆယ်
လွန်၍ စစ်ထိုက် နိုင်သော လူ ပေါင်း ကား၊
ခြောက်သိန်း သုံးထောင် ငါးရာ ငါးဆယ် ရှိသ
တည်း။
၄၇ လေဝိသား တို့သည်၊ ထိုသူ အမျိုး အလိုက်
၄၈ စာရင်း မဝင်ရသည် အမှုမှာ၊- ထာဝရဘုရား
၄၉ သည်မောရှေအား မိန့်တော်မူသည်ကား၊-လေ
ဝိသားတို့ကို၊ ဣသရေလ အမျိုးသားတို့နှင့်ရော
နှော၍ မရေတွက်ရ၊ စာရင်း၌ မသွင်းရ၊-
၅၀ လေဝိသားတို့အားသက်သေခံချက်တဲတော်ကို
၎င်း၊ တဲတော် တန်ဆာ ရှိသမျှကို ၎င်း၊ တဲတော်
နှင့် ဆိုင် သမျှ တို့ကို၎င်းအပ်၍၊ သူတို့ သည်တဲ
တော်နှင့် တဲတော် တန်ဆာ အလုံးစုံ ကို ဆောင်
ရွက်ရ ကြ မည်၊ တဲ တော် မှုကို ထည်း ထမ်း ရ
ကြမည်၊တပ်ချသောအခါ၊ တဲတော်ပတ်လည်
၅၁ ၌၊ မိမိတို့ နေရာ ချ ရ ကြမည်။- တဲတော် ကိုယူ
သွားချိန်ရောက်သောအခါ၊ လေဝိသားတို့သည်
ရုပ်သိမ်းရမည်၊နေရာချချိန်ရောက်သောအခါ၊
ထူထောင်ပြန်ရမည်၊ လေဝိအမျိုးသားမှတပါး
အခြားသော အမျိုးသားသည် ချဉ်းကပ်လျှင်၊
၅၂ အသေ သတ်ခြင်းကို ခံရမည်။- ဣသရေလ အ
မျိုးသားတို့သည် တပ် ချသော အခါ၊ အလုံး အ
ရင်း တရှောက်တည်း၊ လူတိုင်းမိမိဆိုင်သောတပ်
တွင်၊ မိမိ ဆိုင် သော အထံ နား မှာ မိမိ တဲ ကို
၅၃ ဆောက်ရမည်။- ဣသရေလအမျိုးသားစည်း
ဝေးရာ ပရိသတ် အပေါ်မှာ၊ အမျက်တော်မ
ထွက်ရောက် စေခြင်းငှါ၊ လေဝိသား တို့သည်၊
သက်သေ ခံချက် တဲတော်ပတ်လည်၌ နေရာချ
၍၊သက်သေခံချက်တဲတော်ကို စောင့်ရှောက်ရ
၅၄ မည်တည်း။- မောရှေအား ထာဝရဘုရားမှာထား
တော်မူသည် အတိုင်း၊ ဣသရေလ အမျိုးသား
တို့သည်ပြုကြ၏။

၂

၁ တဖန် ထာဝရ ဘုရားသည်၊ မောရှေနှင့်အာ
ရုန်အားမိန့်တော်မူသည်ကား၊- ဣသရေလအ
မျိုးသားအသီးအသီးတို့သည်၊မိမိတပ်နှင့် ဆိုင်
သောအထံ၊ မိမိအဆွေအမျိုးနှင့် ဆိုင်သောအ
ထံအနားမှာ၊ ပရိသတ်စည်းဝေးရာ တဲတော်
၃ ကိုရှေ့ရှု၍ နေရာချရမည်။-နေထွက်ရာအရှေ့
မျက်နှာ၌၊ ယုဒတပ် အထံနှင့်ဆိုင်သော အလုံး
အရင်းသည် နေရာချ၍၊ အမိနဒပ်သား နာရှုန်
သည်၊ယုဒအမျိုးသားတို့တွင် မှူးလုပ်ရမည်။-
၄ သူ အုပ် ရ သော အလုံး အ ရင်း အရေ အ တွက်
ကား၊ ခုနစ်သောင်း လေးထောင် ခြောက်ရာရှိသ
၅ တည်း။- ယုဒတပ် အနားမှာ၊ ဣသခါတပ်ချ၍၊
ဇုအာ သား နာသနေလ သည်၊ ဣသခါ အမျိုး
၆ သားတို့တွင် မှူးလုပ် ရမည်။- သူအုပ်ရသော
အလုံးအရင်းအရေအတွက်ကား၊ ငါးသောင်း
၇ လေးထောင် လေးရာ ရှိသတည်း။- ထိုနောက်၊
ဇာဗုလုန် တပ် ချ၍၊ ဟေလုန် သား ဧလျာ ဘ
သည်၊ ဇာဗုလုန်အမျိုးသား တို့တွင်မှူးလုပ်ရ
၈ မည်။- သူအုပ်ရသော အလုံးအရင်း အရေအ
တွက်ကား၊ ငါးသောင်းခုနစ်ထောင် လေးရာရှိ
၉ သတည်း။- ယုဒတပ်နှင့် ဆိုင်သော အလုံး အ
ရင်း အရေ အတွက်ကား၊ တသိန်း ရှစ်သောင်း
ခြောက် ထောင် လေး ရာ ရှိသ တည်း။ ဤသူတို့
သည်၊တပ်ဦးအရာ၌ရှိရကြမည်။
၁၀ တောင်မျက် နှာ၌၊ ရုဗင် တပ် အလုံး အရင်း
သည်၊ရုဗင်အထံကိုယူ၍၊ ရှေဒုရသားဧလိဇုရ
သည်၊ရုဗင်အမျိုးသားတို့တွင် မှူးလုပ်ရမည်။-
၁၁ သူ အုပ် ရသော အလုံး အ ရင်း အ ရေ အတွက်
ကား၊ လေးသောင်း ခြောက်ထောင် ငါးရာရှိသ
၁၂ တည်း။- ရုဗင်တပ်အနားမှာ ရှိမောင်တပ်ချ၍၊
ဇုရိရှဒ္ဒဲသား ရှေလုမျေလသည်၊ ရှိမောင်အမျိုး
၁၃ သားတို့တွင်မှူးလုပ်ရမည်။-သူအုပ်ရသောအ
လုံးအရင်းအရေအတွက်ကား၊ ငါးသောင်းကိုး
၁၄ ထောင်သုံးရာရှိသတည်း။- ထိုနောက်ဂဒ်တပ်ချ
၍၊ရွေလသား ဧလျာသပ်သည်၊ ဂဒ်အမျိုးသား
တို့တွင်မှူးလုပ်ရမည်။- သူအုပ်ရသောအလုံး
အရင်း အရေ အတွက် ကား၊ လေးသောင်းငါး
၁၅ ထောင်ခြောက်ရာငါးဆယ်ရှိသတည်း။- ရုဗင်
တပ်နှင့်ဆိုင်သော အလုံးအရင်း အရေအတွက်
ကား၊တသိန်းငါးသောင်းတထောင်လေးရာငါး
ဆယ်ရှိသတည်း။ ဤသူတို့သည်၊ ဒုတိယ တပ်
အရာ၌ရှိရကြမည်။
၁၇ ထိုအခါ၊ တပ်မအထထဲ၌၊ ပရိသတ် စည်း
ဝေးရာတဲတော်နှင့်တကွ၊ လေဝိတပ် ရှိရမည်၊
ချရသည်အတိုင်း၊ ထိုအသီးအသီး တို့သည်၊
မိမိနေရာ၌ မိမိဆိုင်သောအထံနှင့်အတူ လိုက်
လျှောက်ရှိရကြမည်။
၁၈ အနောက် မျက်နှာ၌၊ ဧဖရိမ် တပ် အလုံးအ
ရင်းသည်၊ ဧဖရိမ်အထံကိုယူ၍၊ အမိဟုဒ်သား

ဧထိရှမာသည်၊ ဧဖရိမ်အမျိုးသားတို့တွင် မိုလ်
၁၉ လုပ်ရမည်။– သူအုပ်ရသော အလုံးအရင်း အ
ရေ အတွက် ကား၊ လေး သောင်း ငါး ရာ ရှိသ
၂၀ တည်း။– ဧဖရိမ်တပ် အနားမှာ မနာရှေတပ်ချ
၍၊ပေဒါဇုရသားဂါမလျေလသည်၊ မနာရှေအ
၂၁ မျိုးသား တို့တွင် မိုလ် လုပ် ရမည်။– သူ အုပ်ရ
သော အလုံး အရင်း အရေ အတွက် ကား၊ သုံး
၂၂ သောင်း နှစ် ထောင် နှစ် ရာ ရှိ သ တည်း။– ထို
နောက် ဗယ်ာမိန် တပ်ချ၍၊ ဂိဒေါနီသား အဘိ
ဒန်သည်၊ ဗယ်ာ မိန် အမျိုး သား တို့တွင် မိုလ်
၂၃ လုပ်ရမည်။– သူအုပ် ရသော အလုံး အရင်းအ
ရေအတွက်ကား၊ သုံးသောင်းငါးထောင် လေး
၂၄ ရာရှိသတည်း။– ဧဖရိမ်တပ်နှင့် ဆိုင်သော အ
လုံး အ ရင်း အရေ အတွက် ကား၊ တသိန်းရှစ်
ထောင်တရာရှိသတည်း။ ဤသူတို့သည်၊ တတိ
ယတပ်အရာ၌ ရှိရကြမည်။

၂၅ တပ်များမြောက်မျက်နှာ၌၊ ဒန်တပ်အလုံးအ
ရင်းသည်၊ ဒန်အထံကိုထူ၍၊ အမိရှဒဲ့သား အ
ဟေဇာသည်၊ ဒန်အမျိုးသားတို့တွင် မိုလ်လုပ်
၂၆ ရမည်။– သူအုပ်ရသော အလုံးအရင်းအရေအ
တွက်ကား၊ ခြောက်သောင်းနှစ်ထောင်ခုနှစ်ရာ
၂၇ ရှိသတည်း။– ဒန်တပ်အနားမှာ၊ အာရှာတပ်ချ
၍၊ဩကရန်သားပါဂျေလသည်၊ အာရှာအမျိုး
၂၈ သားတို့တွင်မိုလ်လုပ်ရမည်။–သူအုပ်ရသောအ
လုံးအရင်းအရေအတွက်ကား၊ လေးသောင်းတ
၂၉ ထောင်ငါးရာရှိသတည်း။– ထိုနောက်၊နဿလိ
တပ်ချ၍၊ဧနန်သားအဟိရသည်၊နဿလိအမျိုး
၃၀ သားတို့တွင် မိုလ်လုပ်ရမည်။– သူအုပ်ရသော
အလုံးအရင်း အရေအတွက်ကား၊ ငါးသောင်း
၃၁ သုံးထောင် လေးရာ ရှိသ တည်း။– ဒန်တပ်နှင့်
ဆိုင်သောအလုံးအရင်းအရေအတွက်ကား၊တ
သိန်း ငါးသောင်းခုနှစ်ထောင် ခြောက်ရာရှိသ
တည်း။ ဤသူတို့သည်၊ မိမိတို့အထံ ပါလျက်၊
နောက်ဆုံးတပ်အရာ၌ ရှိရကြမည်။

၃၂ ထိုသို့နှင့်အညီ၊ အဆွေ အမျိုး အလိုက် ရေ
တွက်သော ဣသရေလအမျိုးသား၊ တပ်အလုံးအ
ရင်းထုပေါင်းကား၊ ခြောက်သိန်းသုံးထောင်ငါး
၃၃ ရာငါးဆယ်ရှိသတည်း။– ထာဝရဘုရားသည်၊
မောရှေအားမှာထားတော်မူသည်အတိုင်း၊လေ
ဝိသားတို့ကို၊ ဣသရေလအမျိုးသားတို့နှင့်ရော
၃၄ နှော၍မရေတွက်ရ။– ထာဝရဘုရားသည်၊မော
ရှေအားမှာထားတော်မူသည်အတိုင်း၊ ဣသရေ
လအမျိုးသား အသီးအသီးတို့သည်၊ မိမိအထံ
အနားမှာ မိမိနေရာ ချခြင်းကိုငှ၄်၊ မိမိဆိုင်ရာအ
မျိုးအလိုက်ရှိခြင်းကိုငှင်ပြု ရကြ၏။

၃

၁ ထာဝရဘုရားသည်၊ သိနာ တောင် ပေါ်မှာ
မောရှေ အား ဗျာဒိတ် ပေးတော် မူသော အခါ၊
အာရုန်နှင့် မောရှေအမျိုးအနွယ်၏ အထုပ္ပတ္တိ
၂ များကိုမှတ်သားသည်တွင်၊–အာရုန်၏သားဟူ
မူကား၊ သားဦးနာဒပ်၊ ညီအဘိဟု၊ ဧလာဇာ၊
၃ ဣသမာ တည်း။– ဤသူ တို့ကား၊ အစ ထည်
ယဇ် ပုရောဟိတ် အမှုကို ဆောင်စေခြင်းငှါ ဆီ
လောင်းခြင်းအဘိသိတ်ကိုပေး၍ အရာ၌ခန့်ထား
၄ သော၊အာရုန်၏သားဖြစ်ကြသတည်း။– နာဒပ်
နှင့်အဘိဟုသည်၊သိနာတောတွင်ထာဝရဘုရား
ရှေ့တော်၌၊ထူးခြားသောမီးကို ပူဇော်သောအ
ခါ၊ထာဝရဘုရားရှေ့တော်၌သေကြ၏။ သူတို့၌
သား မရှိ သည် ဖြစ်၍၊ ဧလာဇာ နှင့် ဣသမာ
သည်၊အဖ အာရုန်ရှေ့မှာယဇ်ပုရောဟိတ်အမှု
ကိုဆောင်ရွက်ကြ၏။

၅ ထာဝရဘုရားသည်၊ မောရှေအားမိန့်တော်မူ
၆ သည်ကား၊–သင်သည် လေဝိအမျိုးသားတို့ကို
ခေါ်ခဲ့၍ ယဇ် ပုရော ဟိတ် အာရုန် အမှု ကို
ဆောင်စေခြင်းငှါ၊ အာရုန်ထံ၌ နေရာချထား။–
၇ သူတို့သည်၊ပရိသတ်စည်းဝေးရာထဲတော်ရှေ့
မှာ၊ အာရုန်နှင့်ပရိသတ်အပေါင်းတို့ဆောင်ရ
သော အမှု တည်း ဟူသော၊ တဲတော် အမှု ကို
၈ ဆောင် ရွက်ရကြမည်။–သူတို့သည်၊ပရိသတ်
စည်း ဝေး ရာ တဲတော် တန်ဆာ ရှိ သမျှ တို့ကို
ကြည့်ရှုပြုစု၍၊ ဣသရေလအမျိုးသား ဆောင်
၉ ရသောတဲတော်အမှုကိုဆောင်ရကြမည်။–လေ
ဝိသားတို့ကို၊ အာရုန်နှင့်သူ၏ သားတို့၌အပ်ရ
မည်။ ဣသရေလ အမျိုးထဲက သူတို့ကို ရွေး၍၊
၁၀ ငအား အပိုင် ပေး ရမည်။– အာရုန် နှင့် သူ၏
သားတို့ကိုလည်းခန့်ထား၍၊ သူတို့သည်ယဇ်
ပုရောဟိတ်အမှုကိုစောင့်ရကြမည်။သူ၏အမျိုး
မှတပါး၊ အခြားသောသူသည် ချည်းကပ်လျှင်၊
အသေသတ်ခြင်းကိုခံရမည်ဟုမိန့်တော်မူ၏။

၁၁ တဖန် ထာဝရ ဘုရားသည် မောရှေအားမိန့်
၁၂ တော်မူသည်ကား၊– ဣသရေလအမျိုးတွင်၊ အ
ဦး ဖွားမြင်သော သားဦးများ၊ အတွက်၊ လေဝိ
သားတို့ကို ငါရွေးယူသောကြောင့်၊ လေဝိသား
တို့သည် အထူး သဖြင့်ငါ၏ ဟုဖြစ်ရ ကြမည်။–

၁၃ အကြောင်းမူကား၊ ဧဂုတ္တုပြည်၌ သားဦးအ
ပေါင်းတို့ကို ငါသည် ဒဏ်ခတ်သော အခါ၊ ဣ
သရေလအမျိုးတွင်၊ လူဖြစ်စေ၊ တိရစ္ဆာန်ဖြစ်
စေ၊ သားဦးအပေါင်းတို့ကို ငါ့အဖို့ ငါသန့်ရှင်း
စေသောကြောင့်၊ သားဦးအပေါင်းတို့ကိုအထူး
သဖြင့်ငါပိုင်ရ၏၊ ငါသည် ထာဝရ ဘုရားဖြစ်
သည်ဟုမိန့်တော်မူ၏။
၁၄ ထိုနောက် ထာဝရ ဘုရားသည်၊ သိနာ တော၌၊
၁၅ မောရှေအားမိန့်တော်မူသည်ကား၊ လေဝိသား
တို့တွင် အသက် တလကျော် ရှိသော ယောက်ျား
အပေါင်းတို့ကို၊ အဆွေအမျိုးအလိုက်ရေတွက်
၁၆ လော့ဟု- မှာထားတော်မူသည်အတိုင်း၊ မော
၁၇ ရှေသည်လေဝိသားတို့ကိုရေတွက်လေ၏။-လေ
ဝိသားတို့၏ နာမည်ဟူမူကား၊ ဂေရရှုန်၊ ကော
၁၈ ဟတ်၊ မေရာရိ တည်း။- မိမိအဆွေ အမျိုးအ
လိုက်ဂေရရှုန် သားတို့၏ နာမည်ကား၊ လိဗနိ
၁၉ နှင့်ရှိမိတည်း။- မိမိအဆွေအမျိုးအလိုက်ကော
ဟတ်သားတို့၏နာမည်ကား၊အာမရံ၊ ဣဇဟာ၊
၂၀ ဟေဗြုန်၊ ဩဇေလတည်း။- မိမိအဆွေအမျိုး
အလိုက်မေရာရိသားတို့၏နာမည်ကား၊ မဟာ
လိနှင့်မုရှိတည်း။ ဤသူတို့သည်၊ မိမိတို့အအ
မျိုးအလိုက်ရေတွက်သောလေဝိအမျိုးအနွယ်
ဖြစ်ကြ၏။
၂၁ ဂေရရှုန်မှဆင်းသက်သော လိဗနိအဆွေအ
မျိုး၊ ရှိမိအဆွေအမျိုးတို့သည်၊ ဂေရရှုန်အမျိုး
၂၂ အနွယ်ဖြစ်ကြ၏။- ထိုအဆွေ အမျိုးတို့ကိုရေ
တွက်၍အသက်တလကျော်ရှိသော ယောက်ျား
ပေါင်းကား၊ ခုနစ်ထောင် ငါးရာရှိသတည်း။-
၂၃ ဂေရရှုန် အဆွေ အမျိုး တို့သည်၊ တဲတော်အ
၂၄ နောက်မျက်နှာ၌ နေရာချရမည်။- ဂေရရှုန်အ
ဆွေအမျိုးသူကြီးကား၊ လေလ သားဧလျာသပ်
၂၅ တည်း။- ဂေရရှုန်သားတို့ အခန်းအတာ ဟူမူ
ကား၊ ပရိသတ်စည်းဝေးရာတဲတော်၊ အပေါ်
ထဲ၊ အပေါ်ထဲအဖုံး၊ ပရိသတ် စည်းဝေးရာတဲ
၂၆ တော်တံခါးဝ၌ကာသောကုလားကာ၊-တဲတော်
နှင့်ယဇ်ပလ္လင်ပတ်လည်ဝင်းကုလားကာ၊ဝင်း
တံခါးဝ၌ကာသောကုလားကာ၊ ကြိုးများအစ
ရှိသည်တို့ကိုကြည့်ရှုပြုစုရကြမည်။
၂၇ ကောဟတ်မှဆင်းသက်သော အာမရံအဆွေ
အမျိုး၊ ဣဇဟာအဆွေအမျိုး၊ ဟေဗြုန်အဆွေ
အမျိုး၊ ဩဇေလအဆွေအမျိုးတို့သည်၊ ကော
၂၈ ဟတ် အမျိုး အနွယ် ဖြစ်ကြ၏။- တဲတော်ကို
စောင့်သောသူ ထိုအဆွေအမျိုးတို့ကိုရေတွက်
၍ အသက် တ လ ကျော် ရှိ သော ယောက်ျား
ပေါင်းကား၊ ရှစ်ထောင်ခြောက်ရာရှိသတည်း။
၂၉ ကောဟတ် အဆွေ အမျိုး တို့ သည်၊ တဲ တော်
၃၀ တောင်ဘက်မျက်နှာ၌ နေရာချရမည်။- ကောဟတ်
အဆွေအမျိုး သူကြီးကား၊ ဩဇေလသားဧလိ
၃၁ ဇာဖန်တည်း။- သူတို့အခန်းအတာဟူမူကား၊
သစ်တာ၊ စားပွဲ၊ ယဇ်ပလ္လင်များ၊ အမှုတော်
ထမ်းရာ တဲတော် တန်ဆာ များ၊ အတွင်း ကု
လားကာ အစ ရှိသည် တို့ကို ကြည့်ရှုပြုစုရကြ
၃၂ မည်။- ယဇ်ပရောဟိတ် အာရုန် သား ဧလာ
ဇာသည်၊ လေဝိ အဆွေ အမျိုး သူကြီး တို့ကို
အုပ်၍၊ တဲတော်စောင့်သောသူတို့ကို ကြည့်ရှုစီ
ရင်ရမည်။
၃၃ မေရာရိမှဆင်းသက်သောမဟာလိအဆွေအ
မျိုး၊ မုရှိအဆွေအမျိုးတို့သည်၊မေရာရိအမျိုး
၃၄ အနွယ်ဖြစ်ကြ၏။- ထိုအဆွေ အမျိုးတို့ကို ရေ
တွက်၍အသက်တလကျော်ရှိသောယောက်ျား
ပေါင်းကား၊ခြောက်ထောင်နှစ်ရာရှိသတည်း။-
၃၅ မေရာရိ အဆွေအမျိုး သူကြီးကား၊ အဘိဟဲလ
သား ဇုရေလ တည်း။ ဤသူ တို့သည် တဲ တော်
၃၆ မြောက်မျက်နှာ၌နေရာချရမည်။-မေရာရိသား
တို့အခန်းအတာဟူမူကား၊ တဲတော်ပျဉ်ပြား
များ၊ကန့်လန့်ကျင်များ၊တိုင်များ၊ ခြေစွပ်များ၊
ထိုအရာနှင့်ဆိုင်သောတန်ဆာများအစရှိသည်
၃၇ တို့ကိုငင်၊ ဝင်းတိုင်များ၊- ခြေစွပ်များ၊ တံသင်
များ၊ကြိုးများတို့ကိုငင်ကြည့်ရှုပြုစုရကြမည်။
၃၈ မောရှေနှင့် အာရုန်မှစ၍၊ အာရုန်၏ သားတို့
သည်၊ ဣသရေလအမျိုးသားတို့အဖို့၊သန့်ရှင်း
ရာဌာနတော်ကို စောင့်လျက်၊ ပရိသတ်စည်း
ဝေးရာတဲတော်အရှေ့မျက်နှာ၌ နေရာချရမည်။
သူတို့အမျိုးမှတပါး၊ အခြားသောသူသည်ချဉ်း
၃၉ ကပ်လျှင်၊ အသေသတ်ခြင်းကိုခံရမည်။-ထာဝ
ရဘုရားမှာထားတော်မူသည်အတိုင်း၊ မောရှေ
သည်၊ လေဝိသားတို့ကို အဆွေအမျိုး အလိုက်
ရေ တွက် ၍၊ အ သက် တ လ ကျော် ရှိ သော
ယောက်ျားပေါင်းကား၊ နှစ်သောင်းနှစ်ထောင်
ရှိသတည်း။
၄၀ ထာဝရဘုရားသည်၊ မောရှေအားမိန့်
တော်မူသည်ကား၊ ဣသရေလ အမျိုးသားတို့
တွင်၊ အ သက် တ လ ကျော် ရှိသော သား ဦး
ယောက်ျားအပေါင်းတို့ကို ရေတွက်၍ စာရင်း

၄၀ ဟူသော်၊- ဣသရေလအမျိုးသားဦး အပေါင်း
တို့အတွက်၊လေဝိသားတို့ကိုငင်၊ ဣသရေလအ
မျိုးသားတို့၌ ထိမိရိ ဆွဲ နှံသားဦးအပေါင်းတို့အ
တွက်၊ လေဝိသားတို့၌ရှိသောတိရိစ္ဆာန်များကို
ငင်၊ငါအဖို့ယူလော့၊ ငါသည်ထာဝရဘုရားဖြစ်
၄၁ သည်ဟု- မှာထားတော်မူသည် အတိုင်း၊ မော
ရှေသည်၊ ဣသရေလအမျိုးသားဦးအပေါင်းတို့
၄၂ ကိုရေတွက်၍၊- အသက် တ လ ကျော် ရှိသော
သားဦး ယောက်ျား နာမည် ပေါင်း ကား၊ နှစ်
သောင်းနှစ်ထောင်နှစ်ရာခုနှစ်ဆယ်သုံးယောက်
၄၃ ရှိသတည်း၊-တဖန်ထာဝရဘုရားသည်၊မောရှေ
၄၄ အားမိန့်တော်မူသည်ကား၊- ဣသရေလအမျိုး
သားဦး အပေါင်းတို့အတွက် လေဝိသား တို့ကို
ငင်၊ဣသရေလအမျိုးသားတို့၌ တိရိစ္ဆာန်များ
အတွက်၊လေဝိသားတို့၌ရှိသောတိရိစ္ဆာန်များ
ကိုငင်ယူလော့၊လေဝိသားတို့သည်၊ငါ၏လူဖြစ်
၄၅ ရကြမည်၊ငါသည်ထာဝရဘုရားဖြစ်၏၊- လေဝိ
သားတို့ထက်ပိုသော၊ဣသရေလအမျိုးသားဦး
နှစ်ရာခုနှစ်ဆယ်သုံးယောက်တို့ကို ရွေးရမည်
၄၆ အမှုမှာ၊- အကျပ်တော် အလိုက် လူတ ကိုယ်
လျှင်၊ငါးကျပ်စီခံယူရမည်၊အကျပ်ကား၊ ဂေရ
၄၇ နှစ်ဆယ် ဖြစ်သတည်း၊- ပိုသော သူတို့ ပေးရ
သော အရွေးငွေကို၊ အာရုန် နှင့်သူ၏ သားတို့
အားပေးရမည်ဟု မိန့်တော်မူသည် အတိုင်း၊-
၄၈ လေဝိသားတို့နှင့် ဣသရေလအမျိုး သားဦးတို့
ကိုရွေး၍၊ ပိုသေးသော သားဦးတို့၏ အရွေးငွေ
၄၉ ကို၊-မောရှေသည် အကျပ်တော်နှင့် မှန်လျက်၊
အစွက်တ ထောင် သုံး ရာခြောက် ဆယ် ငါး
၅၀ ကျပ်ကို ယူပြီး လျှင်၊- ထာဝရ ဘုရား မှာထား
တော်မူသောစကားတော်အတိုင်း၊ ထိုအရွေးငွေ
၅၁ ကိုအာရုန်နှင့်သူ၏သားတို့အားပေးလေ၏၊

၄

၁ တဖန် ထာဝရဘုရားသည်၊ မောရှေနှင့် အာ
၂ ရုန်အားမိန့်တော် မူသည်ကား၊- လေဝိအမျိုး၊
၃ ကောဟတ် အနွယ်သားတို့တွင်၊ အသက်သုံး
ဆယ်လွန်၍ငါးဆယ်မပြည့်၊ ပရိသတ်စည်းဝေး
ရာထဲတော် အမှုကို ဆောင်ခြင်းငှါ၊ အလုံး အ
ရင်းဝင်သော သူအပေါင်းတို့ကို၊ ဆွေအဆွေ
၄ အမျိုးအလိုက် စာရင်းယူလော့၊- အလွန်သန့်
ရှင်းသောအရာတို့နှင့်ဆိုင်၍၊ ပရိသတ် စည်း
ဝေးရာ ထဲတော်၌ ကောဟတ် သားများ ဆောင်
၅ ရွက် ရသော အမှု ဟူမူ ကား၊- တပ် မြို့ မြို့
ရောက်သောအခါ၊ အာရုန်နှင့်သူ၏သားတို့သည်
လာ၍၊ အတွင်းကုလားကာကိုချပြီးလျှင်၊ သက်
၆ သေခံချက်သေတ္တာကို ဖုံးရမည်၊- ထိုသားကော
အပေါ်မှာတထောက်ရေနှင့်ဖုံး၍ ဖြန့်၍သား
ရေအပေါ်မှာထည်းပြာသောအထည်ကိုခင်းပြီး
၇ မှ၊ထမ်းပိုးတို့ကိုလျှိုထားရမည်၊-ရှေ့တော်မုန့်
စားပွဲပေါ်မှာ၊ပြာသောအထည်ကိုခင်း၍၊လင်
ပန်း၊ ဇွန်း၊သောင်းအရာထားရာနှင့်တကွ အ
၈ မြဲထည့်ရသော မုန့်ကို တင်ပြီးမှ၊- ထိုအရာတို့
ကို၊ နီသောအထည်နှင့် ဖုံးရမည်၊ တဖန်တ
ထောက်သားရေနှင့်ဖုံးပြန်၍ ထမ်းပိုးတို့ကိုလျှို
၉ ထားရမည်၊-မီးထွန်းရာမီးခုံ၊ မီး ခွက်၊မီးညှပ်၊
မီးညှပ်ခံရာခွက်၊ ဆီအိုးအစရှိသည်တို့ကို၊ ပြာ
၁၀ သောအထည်နှင့်ဖုံးပြီးမှ၊- ထိုတန်ဆာရှိသမျှ
တို့ကို၊ တထောက် သားရေအိတ်ထဲ၌ သွင်းထား
၁၁ ၍၊ထမ်းပိုးကိုတပ်ရမည်၊- ရွှေယဇ်ပလ္လင်ပေါ်
မှာ၊ ပြာသော အထည်ကိုခင်း၍၊ တထောက်သား
ရေနှင့်ဖုံးပြီးလျှင်၊ ထမ်းပိုးတို့ကို လျှိုထားရ
၁၂ မည်၊-သန့်ရှင်းရာဌာန၌ အမှုတော်ကို ဆောင်
ရွက်ရန် တန်ဆာ ရှိသမျှ တို့ကို၊ ပြာသော အ
ထည်အိတ်ထဲ၌သွင်းထား၍၊တထောက်သားရေ
၁၃ ဖြင့်ဖုံးပြီးမှ၊ ထမ်းပိုးကို တပ်ရမည်၊- ယဇ်
ပလ္လင်မှပြာကိုပယ်ရှင်း၍၊ပလ္လင်ပေါ်မှာမောင်း
၁၄ သော အထည်ကို ခင်းပြီးလျှင်၊- ထိုပလ္လင်နှင့်
ဆိုင်သော အမှုတော် ထမ်းရန် တန်ဆာ တည်း
ဟူသော၊ လင်ပန်း၊ အခဲ သား မြှတ်၊ ဂျူးရွှင်း
ပြား အင်တုံအစရှိသော၊ယဇ်ပလ္လင်တန်ဆာရှိ
သမျှတို့ကိုတင်၍၊ တထောက်သားရေနှင့်ဖုံးပြီး
၁၅ မှ၊ထမ်းပိုးတို့ကိုလျှိုထားရမည်၊-ထိုသို့တပ်မြို့
မြို့ရောက်သောအခါ၊ အာရုန်နှင့်သူ၏သားတို့
သည်၊ သန့်ရှင်းရာဌာနတော်နှင့်သန့်ရှင်းသော
တန်ဆာရှိသမျှတို့ကိုဖုံးအုပ်သောနောက်၊ကော
ဟတ် သားတို့သည်၊ ထမ်းခြင်းငှါ ချည်းကပ်ရ
ကြမည်၊ သို့ရာတွင်၊ သူတို့သည် သေဘေး နှင့်
လွတ်မည်အကြောင်း၊ သန့်ရှင်းသောအရာကို
မကိုင်ရ၊ ဤအရာကား၊ပရိသတ်စည်းဝေးရာထဲ
တော်၌ ကောဟတ် သားများ ဆောင် ရွက်ရ
သောအမှုပေတည်း။
၁၆ ယဇ်ပုရောဟိတ် အာရုန်သား၊ ဧလာဇာ၏
အရာနှင့်ဆိုင်သောအမှုဟူမူကား၊မီးထွန်းစရာ
ဆီ၊မီးရှို့ရာနံ့သာပေါင်းမွှေး၊ နေ့ရက်အစည်အ
တိုင်း ဆက်ကပ် ရသော ဘောဇဉ် ပူဇော်သ

ကား၊ ထိမ်းရန် ဆီ အစရှိသော၊ ထဲတော် နှင့် ထဲ
တော်တန်ဆာရှိသမျှထို့ကိုငှင်၊ သန့်ရှင်းရာဌာ
နတော်နှင့်သန့်ရှင်းသော တန်ဆာရှိသမျှထို့ကို
ငှင်ကြည့်ရှုပြုစုရမည်၊
၁၇ ထစန်ထာဝရ ဘုရားသည်၊ မောရှေနှင့် အာ
၁၈ ရုန်အား၊ မိန့်တော် မူသည်ကား၊- ကောသတ်
အဆွေ အမျိုး၊အနွယ်သား၊ထို့ကို၊ လေဝိသား၊
၁၉ ထဲက မပယ် မဖြတ် နှင့်၊- သူတို့ သည် အလွန်
သန့်ရှင်းသောအရာတို့ကိုချည်းကပ်သောအခါ၊
သေသေးလွတ်၍ အသက်ရှင်မည်အကြောင်း၊
အာရုန်နှင့်သူ၏ သား၊သို့သည် အရင်ဝင်၍၊ ထု
အသီး၊အသီး၊ စောင့်ရသောအမှု၊ ထမ်းရသော
၂၀ ဝန်ထိုကိုခွဲခန့်ရမည်။-သို့ရာတွင်၊သန့်ရှင်းသော
အရာတို့ကိုဖုံးအုပ်စည်အခါ၊ ကောဟတ် သား
ထို့သည်သေသေးနှင့် လွတ်မည်အကြောင်း၊ အ
ထဲသို့ဝင်၍မကြည့်ရဟုမိန့်တော်မူ၏။
၂၁ တစန်ထာဝရ ဘုရားသည်၊မောရှေအား မိန့်
၂၂ တော်မူသည်ကား၊- ဂေရရှုန် အနွယ်သားတို့
၂၃ တွင်၊ အသက် သုံးဆယ်လွန်၍ ငါးဆယ် မရှိ၊
ပရိသတ်စည်းဝေးရာ ထဲတော်အမှုကို ဆောင်
ခြင်းငှါ၊ အလုံးအရင်းဝင်သောသူအပေါင်းတို့
ကို၊ ဘိုးဘ အဆွေ အမျိုး အလိုက် စာရင်းယူ
၂၄ လော့၊-ဂေရရှုန်အဆွေအမျိုးတို့သည် စောင့်ရ
၂၅ သောအမှု ထမ်းရသော ဝန် ဟူမူကား၊- အ
တွင်းထဲတော်ကုလားကာ၊ပရိသတ်စည်းဝေး
ရာထဲတော်ကုလားကာ၊ အပေါ်ထဲ၊ တဟာရှ
သားရေအဖုံး၊ ပရိသတ်စည်းဝေးရာ ထဲတော်
၂၆ တံခါးဝ၌ကာသောကုလားကာ၊- ထဲတော်နှင့်
ယဇ်ပလ္လင်ပတ်ထည်ဝင်းကုလားကာ၊ဝင်းတံ
ခါးဝ၌ ကာသော ကုလားကာ၊ ကြိုးများအစရှိ
သည့် ထို့ကိုငှင်၊ ထိုအရာများနှင့် ဆိုင်၍ အမှု
တော် ထမ်းရန်တန်ဆာ ရှိသမျှထို့ကိုငှင် ထမ်း
၂၇ ရွက်ရကြမည်၊- ဂေရရှုန်သားများအမှုစောင့်
လေရာရာ၊ ဝန်ထမ်းလေရာရာ၌၊ အာရုန်နှင့်သူ
၏သားတို့ ခွဲခန့် မိရင်သည်အတိုင်း ဆောင် ရွက်
၂၈ ရကြမည်၊- ဤနေ့ကား၊ပရိသတ်စည်းဝေးရာ
ထဲတော်၌၊ ဂေရရှုန် အဆွေ အမျိုး သား များ
ဆောင်ရွက်ရသော အမှုပေတည်း။ ယဇ်ပရော
ဟိတ် အာရုန်၏သား ဣသမာ သည်၊ သူတို့ကို
အုပ်ရမည်၊
၂၉ မေရာရိ သားတို့ တွင် ထည့်၊ အသက် သုံး
၃၀ ဆယ်လွန်၍ ငါးဆယ်မရှိ၊ ပရိသတ်စည်းဝေး
ရာထဲတော်အမှုကိုဆောင်ခြင်းငှါ၊အလုံးအရင်း
ဝင်သောသူ အပေါင်းထို့ကို၊ ဘိုးဘ အဆွေအ
၃၁ မျိုး အလိုက် စာရင်း ယူလော့၊- သူတို့သည်၊
ပရိသတ်စည်းဝေးရာ ထဲတော်၌စောင့်ရသော
အမှု၊ထမ်းရသောဝန်ဟူမူကား၊ ထဲတော်ပျဉ်
၃၂ ပြား၊ ကန့်လန့်ကျင်၊တိုင်၊ခြေစွပ်၊- ဝင်းတိုင်၊
ခြေစွပ်၊ တံသင်၊ ကြိုးများ၊ ထို့ကိုငှင်၊ ထို အရာ
များနှင့်ဆိုင်၍ အမှုတော်ထမ်းရန်တန်ဆာရှိမျှ
ထို့ကိုငှင်ထမ်းရွက်ရကြမည်၊ သူတို့ထမ်းရွက်
ရသောတန်ဆာတို့ကို အမည်မှတ်၍ ရေတွက်ရ
၃၃ မည်။-ဤနေ့ကား၊ ယဇ်ပရောဟိတ် အာရုန်၏
သား၊ဣသမာအုပ်၍၊ပရိသတ်စည်းဝေးရာထဲ
တော်၌၊ မေရာရိအဆွေအမျိုးသားများ ဆောင်
ရွက်ရသောအမှုပေတည်း။
၃၄ ၃၅ မောရှေနှင့်အာရုန်အစရှိသော၊ပရိသတ်
သူကြီး တို့သည်၊ ကောဟတ် သားတို့တွင် အ
သက်သုံးဆယ်လွန်၍ ငါးဆယ်မရှိ၊ ပရိသတ်
စည်းဝေးရာထဲတော်အမှုကို ဆောင်ခြင်းငှါ၊ အ
လုံးအရင်းဝင်သောသူအပေါင်းတို့ကို၊ဘိုးဘအ
ဆွေ အမျိုး အလိုက် ရေတွက်၍ စာရင်း သွင်း
၃၆ သော သူပေါင်းမူကား၊ နှစ်ထောင် ခုနှစ်ရာ ငါး
၃၇ ဆယ်ရှိသတည်း။-ဤသူတို့သည်၊ မောရှေ၌ထာ
ဝရဘုရား မှာထားတော်မူသည်အတိုင်း၊ မော
ရှေနှင့် အာရုန်သည်ရေတွက်၍ပရိသတ်စည်း
ဝေးရာ ထဲတော် အမှုကို ဆောင်ရွက် ရသော
ကောဟတ်အဆွေအမျိုးသားပေတည်း။
၃၈-၄၀ ဂေရရှုန် သားတို့တွင် အသက် သုံးဆယ်
လွန်၍ငါးဆယ်မရှိ၊ ပရိသတ်စည်းဝေးရာထဲ
တော်အမှုကို ဆောင်ခြင်းငှါ၊ အလုံးအရင်းဝင်
သောသူအပေါင်းတို့ကို၊ ဘိုးဘအဆွေအမျိုးအ
လိုက်ရေတွက်၍ စာရင်း သွင်းသော သူပေါင်း
ကား၊ နှစ်ထောင် ခြောက်ရာ သုံး ဆယ် ရှိသ
၄၁ တည်း။- ဤသူတို့သည်၊ ထာဝရဘုရားမှာထား
တော်မူသည်အတိုင်း၊ မောရှေနှင့်အာရုန်သည်
ရေတွက်၍ပရိသတ်စည်းဝေးရာထဲတော်အမှု
ကို ဆောင်ရွက်ရသော ဂေရရှုန် အဆွေ အမျိုး
သားပေတည်း။
၄၂-၄၄ မေရာရိသားတို့တွင်အသက်သုံးဆယ်လွန်
၍ငါးဆယ်မရှိ၊ ပရိသတ်စည်းဝေးရာထဲတော်
အမှုကိုဆောင်ခြင်းငှါ၊ အလုံးအရင်း ဝင်သော
သူအပေါင်းတို့ကို၊ ဘိုးဘအဆွေအမျိုးအလိုက်
ရေတွက်၍ စာရင်း သွင်းသော သူပေါင်းကား၊

၄၅ သုံးထောင်နှစ်ရာ ရှိသတည်း။- ဤသူတို့သည်၊ မောရှေ၌ ထာဝရဘုရား မှာထားတော် မူသည် အတိုင်း၊ မောရှေနှင့် အာရုန်သည် ရေတွက် သောမေရာရိအဆွေအမျိုးသားပေတည်း။

၄၆-၄၈ ထိုသို့ နှင့် အညီ၊ လေဝိသားတို့တွင် အသက်သုံးဆယ်လွန်၍ငါးဆယ်မပြီ၊ ပရိသတ်စည်းဝေးရာ ထဲတော်အမှုတော်ကိုဆောင်၍ ဝန်စွာကို ထမ်းခြင်းငှါ ဝင်သောသူ အပေါင်းတို့ ကို၊ ထိုးတအဆွေအမျိုးအလိုက်မောရှေနှင့်အာရုန် အစရှိသော၊ ဣသရေလ အမျိုး သူကြီးတို့ သည်ရေတွက်၍ စာရင်းသွင်းသော လူပေါင်း ကား၊ ရှစ်ထောင်ငါးရာရှစ်ဆယ်ရှိသတည်း။-

၄၉ မောရှေ၌ ထာဝရ ဘုရား ထားတော် မူသော ပညတ်တော်အတိုင်း၊ လူအသီးအသီး ဆောင်ရ သောအမှု၊ အသီးအသီးထမ်းရသောဝန်တို့ကို ထောက်၍မောရှေရေတွက်သတည်း။

## ၅

၁ တဖန်ထာဝရဘုရားသည်၊ မောရှေအားမိန့်
၂ တော်မူသည်ကား၊- ငါနေသောတပ်ကို မညစ်
၃ ညူးစေခြင်းငှါ၊ ဣသရေလအမျိုးသားတို့သည်၊ နူသောသူ၊ ယိုနာစွဲသောသူ၊ အသေကောင်ထိ၍ မစင်ကြယ်သောသူ ယောက်ျားမိန်းမအပေါင်းတို့ ကို၊ တပ်ပြင်မှာနေရာချထားရမည် အကြောင်း
၄ ဆင့်ဆို လော့ဟု၊- မောရှေ အား မိန့်တော် မူ သည်အတိုင်း၊ ဣသရေလ အမျိုးသားတို့သည် ပြုကြ၏။

၅ တဖန် မောရှေအား ထာဝရ ဘုရားက၊ သင် သည် ဣသရေလအမျိုးသားတို့အားဆင့်ဆိုရ
၆ မည်မှာ၊-လူပြုတတ်သောဒုစရိုက်ကိုပြု၍၊ ထာ ဝရဘုရားကိုပြစ်မှားသဖြင့်အပြစ်ရောက်သော
၇ ယောက်ျား မိန်းမသည်၊- ထိုအပြစ်ကို ဖော်ပြ၍ တောင်းပန်ရမည်။ ပြစ်မှားသောအတွက်၊ ငါးစု တစုကိုထပ်၍၊ ပြစ်မှား ခံသောသူ အားပေးရ
၈ မည်။- ထိုအပြစ် အတွက် ပေး သော ဥစ္စာကို ခံ ထိုက်သော အမျိုးသားချင်း မရှိလျှင်၊ ယဇ်ပု ရောဟိတ်အမှီ၊ ထာဝရ ဘုရားအား ပူဇော်ရ မည်။ ထိုမှတပါး၊ အပြစ်ပြေစေခြင်းငှါ၊ အပြစ် ဖြေရာယဇ်သိုး၊ သိုးတကောင်ကိုပူဇော်ရမည်။

၉ ယဇ်ပုရောဟိတ် အား ဣသရေလ အမျိုး သား ပူဇော်၍ သန့်ရှင်းသော အရာရှိ သမျှတို့
၁၀ သည်၊ ယဇ်ပုရောဟိတ်၏ ဥစ္စာဖြစ်ရမည်။-လူ တိုင်းသန့်ရှင်းစေ၍ယဇ်ပုရောဟိတ်အားလှူသ မျှတို့သည်လည်း၊ ယဇ်ပုရောဟိတ် ၏ဥစ္စာဖြစ် ရမည်ဟုမိန့်တော်မူ၏။

၁၁ တဖန် မောရှေအား ထာဝရဘုရားက၊ သင် သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ မည်မှာ၊- သင်၏ မိန်းမသည် အခြားတပါး သောယောက်ျားနှင့်မှားယွင်း၍ ထင်ကိုပြစ်မှား လျှင်၎င်း၊ မှားယွင်းစည်တွင် သူတပါး မတွေ့မိ၊ သက်သေမရှိ၊ သီလပျက်သော်လည်း၊ ထိုအမှုကို
၁၃ ဖွက်ထား၍ ထင်မသိလျှင်၎င်း၊ သီလပျက်သည် ဖြစ်စေ၊ မပျက်သည်ဖြစ်စေ၊ ထင်သည်မယားကို
၁၅ မယုံလျှင်၎င်း၊- ထိုမိန်းမပြုရသောပူဇော်သကာဆို မုယောမုန့် တစြဲပါလျက်၊ သူ့ကိုယဇ်ပုရော ဟိတ်ထံသို့ခေါ်သွားရမည်။ မုန့်ညက်ပေါ်မှာဆီ ကိုမလောင်းရ၊ လောဗန်ကိုမတင်ရ၊ မယားကိုမ ယုံခြင်းပူဇော်သကာ၊ အပြစ်ကို ဖော်တင်ရာပူ
၁၆ ဇော်သကာဖြစ်၏။- ယဇ်ပုရောဟိတ်သည်၊ ထို ပူဇော်သကာကိုယူ၍၊ ထာဝရဘုရားရှေ့တော်
၁၇ ၌ထားရမည်။- ယဇ်ပုရောဟိတ်သည်၊ သန့် ရှင်းသောရေကိုမြေအိုး၌ လောင်းပြီးလျှင်၊ ထဲ တော်၌ ရှိသော မြေမှုန့်ကိုယူ၍ ရေထဲမှာ ထည့်
၁၈ ရမည်။- ထိုမိန်းမကို ထာဝရဘုရား ရှေ့တော်မှာ ထားပြီးလျှင်၊ ခေါင်း၌ အချည်းစည်းမှိစေ၍၊ မယားကို မယုံ ခြင်း ပူဇော် သကာ တည်း ဟူ သော၊ သတိပေးရာပူဇော်သကာကိုမိန်းမလက်၌ ထည့်ရမည်။ ကျိန်ခြင်းဘေးကိုဖြစ်စေသောရေ ခါးကို၊ ယဇ် ပုရော ဟိတ် ကိုယ် တိုင် ကိုင်ရ
၁၉ မည်။- ထိုအခါယဇ်ပုရောဟိတ်သည်၊ ထိုမိန်း ကိုအကျိန်တိုက်လျက်၊ သင်သည်ကိုယ်ခင်ပွန်း မှတပါး၊ အခြားသော ယောက်ျားနှင့်မှားယွင်း ခြင်း၊ ညစ်ညူးခြင်းမရှိလျှင်၊ ကျိန်ခြင်းဘေးကို ဖြစ်စေ သော၊ ဤရေ ခါးနှင့် ကင်း လွတ် စေသ
၂၀ တည်း။ ကိုယ်ခင်ပွန်းမှတပါး၊ အခြားသော ယောက်ျား နှင့် မှား ယွင်း၍ ညစ်ညူး ခြင်း ရှိ
၂၁ လျှင်၊-ထာဝရဘုရားသည်၊ သင်၏ပေါင်ကိုမိန့် စေ၍ ဝမ်းကို ထည်းရောင် စေသဖြင့်၊ သင့်ကို ကျိန်အပ်သောသူ၊ အထိမ်းအမှတ်ပြု၍လူများ ကျိန်ဆိုခြင်းကို ခံရသောသူဖြစ်စေခြင်းငှါ စီရင်
၂၂ တော်မူစေသတည်း။- ကျိန်ခြင်းဘေး ဖြစ်စေ သော၊ ဤရေသည်သင်၏ ဝမ်းထဲသို့ဝင်၍ ဝမ်း ရောင်ခြင်း၊ ပေါင်မိန့်ခြင်းကိုဖြစ်စေသတည်းဟု၊ ယဇ်ပုရောဟိတ်သည် ကျိန်ခြင်း အကျိန်တိုက် လျှင်၊ မိန်းမက၊ အာမင်၊ အာမင်ဟုဝန်ခံရမည်။-

၂၃ ယဇ်ပုရောဟိတ်သည်လည်း ထိုအကျိန်တို့ကို
၂၄ ရေးမှတ်၍၊ တဖန်ရေခါးနှင့်ချေပြီးမှ၊-ကျိန်ခြင်း
ထား ဖြစ်စေသော ရေခါးကို၊ မိန်းမအား တိုက်ရ
မည်။ထိုရေသည်မိန်းမထဲသို့ဝင်၍ခါးလိမ့်မည်။-
၂၅ ထိုအခါယဇ်ပုရောဟိတ်သည်၊ မယားကိုမယုံ
ခြင်းပူဇော်သကာကို၊ မိန်းမလက်မှယူ၍၊ ထာဝရ
ဘုရားရှေ့တော်၌ ဖြုတ်လျှက် ယဇ်ပလ္လင် ပေါ်
၂၆ မှာ ဆက်ပြီးလျှင်၊- ရန်ညက် တလက် အွန်း
တဦးဟူသော၊ပူဇော်သကာအတွက်အတာကို
ယဇ်ပလ္လင်ပေါ်မှာမီးရှို့၍၊ ထိုနောက်၊အကျိန်
၂၇ ရေကိုမိန်းမသောက်စေရမည်။- ထိုမိန်းမသည်လင်
ကို ပြစ်မှား၍ ညစ်ညူး ခြင်းရှိလျှင်၊ ကျိန် ခြင်း
ထားဖြစ်စေသောရေကိုသောက်ပြီ မှ၊ သူအထဲ
၌ရေဝင်၍ခါးသဖြင့်၊ ဝမ်းရောင်ခြင်း၊ပေါင်ပိန်
ခြင်းသို့ရောက်၍၊ ထိုမိန်းမသည်မိမိအမျိုး၌ကျိန်
၂၈ အပ်သောသူဖြစ်လိမ့်မည်။- သို့မဟုတ်၊ ထိုမိန်း
သည်မညစ်ညူး၊စင်ကြယ်ခြင်းရှိလျှင်၊ထားနှင့်
လွတ်၍၊ ပဋိသန္ဓေယူသောအခွင့်ရှိလိမ့်မည်။-
၂၉ ဤရွေကား၊ မိန်းမသည်ကိုယ်ခင်ပွန်းမှတပါး၊ အ
ခြားသော ယောကျ်ားနှင့် မှားယွင်း၍၊ ညစ်ညူး
၃၀ ခြင်းရှိသော်၎င်း၊- ယောကျ်ားသည်မယားကိုမ
ယုံသော သဘော စွဲလမ်း သော် ၎င်း၊ စောင့်ရ
သောတရားပေတည်း။ယောကျ်ားသည်မယား
ကိုမယုံ၊ ထာဝရဘုရားရှေ့တော်၌ ထားသောအ
ခါ၊ယဇ်ပုရောဟိတ်သည်ဤတရားအတိုင်းစီရင်
၃၁ သဖြင့်၊-ယောကျ်ားသည်အပြစ်နှင့်ကင်းလွတ်
၍၊ မိန်းမသည် မိမိအပြစ်ကို ခံရမည်ဟုမိန့်တော်
မူ၏။

၆

၁ တဖန် မောရှေအား ထာဝရ ဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
၂ မည်မှာ၊-ယောကျ်ားဖြစ်စေ၊မိန်းမဖြစ်စေ၊ထာဝရ
ဘုရားအဖို့မိမိကိုခြားနားစေ၍၊ နာဇရိသစ္စာပြု
၃ ခြင်း၄ါ၊မိမိကိုမိမိခွဲထားသောအခါ၊-စပျစ်ရည်
နှင့်ယစ်မျိုးကိုရှောင်ရမည်။ စပျစ်ရည်ချဉ်နှင့်
ယစ်မျိုး ချဉ်ကိုလည်း မသောက်ရ၊ စပျစ်သီး
ဖြင့်လုပ်သော အရည်ကို အလျှင်းမသောက်ရ။
စပျစ်သီးအစိမ်းအခြောက်ကိုလည်း မစားရ။-
၄ ခြားနားလျက် နေသော ကာလပတ်လုံး၊ စပျစ်
သီးအဆန်၊ စပျစ်သီးအခွံမှစ၍ စပျစ်ပင်ကဖြစ်
၅ သမျှကို မစားရ။- ခြား နား ခြင်း သစ္စာစောင့်
သောကာလပတ်လုံး၊ ဦးဆံကိုမရိတ်ရ၊ ထာဝ
ရဘုရားအဖို့မိမိကို ခြားနားစေသော ကာလမ
စေ့မှီတိုင်အောင်၊သူသည်သန့်ရှင်းရသဖြင့်၊မိမိ
ဆံပင်ကို အလိုအလျောက် တိုးပွားစေရမည်။-
၆ ထာဝရဘုရားအဖို့မိမိကိုခြားနားစေသော ကာ
လပတ်လုံး၊အသေကောင်ကို မချဉ်းမကပ်ရ။-
၇ သူ၏ ဘုရားသခင်အဖို့သူ၏ ခေါင်းကို ခြားနား
စေသော ကြောင့်၊ မိဘ၊ ညီအစ်ကို၊ နှမ သေ
၈ သော်လည်း၊ ညစ်ညူးခြင်းကိုမခံရ။-ခြားနား
လျက်နေသော ကာလပတ်လုံး၊ ထာဝရဘုရား
၉ အဖို့ သန့်ရှင်း ရမည်။- သူ အနားမှာ တစုံ တ
ယောက် သော သူ သည် ချက်ချင်း သေ၍၊ သူ
သည် ခြားနားစေသော ခေါင်းကို ညစ်ညူးစေ
လျှင်၊ စင်ကြယ် စေသော နေ့တည်း ဟူသော၊
၁၀ သတ္တမနေ့၌ ဦးဆံကိုရိတ်ရမည်။- အဋ္ဌမနေ့၌၊
ခိုနှစ်ကောင်ဖြစ်စေ၊ ငှက်ကလေးနှစ်ကောင်ဖြစ်
စေ၊ တရားရုံ ပရိသတ်စည်းဝေးရာ တဲတော်
တံခါးရှေ့၊ ယဇ်ပုရောဟိတ်ထံသို့ ဆောင်ခဲ့ ရ
၁၁ မည်။- ယဇ်ပုရောဟိတ်သည်လည်း၊ အပြစ်
ဖြေရာယဇ်အဖို့ တကောင်၊ မီးရှို့ရာ ယဇ်အဖို့တ
ကောင်ကိုပူဇော်၍၊ ထိုသူ၌အသေကောင်အား
ဖြင့်ရောက်သောအပြစ်ဖြေခြင်းကိုပြုပြီးမှ၊ ထို
နေ့ချင်းတွင်သူ၏ခေါင်းကို သန့်ရှင်းစေရမည်။-
၁၂ အရင် ခြား နား စေ သော ကာလ ကို ထာ ဝ ရ
ဘုရား အဖို့တဖန် ခြားနားစေ၍၊ အခါမလည်
သော သိုးသငယ်တကောင်ကို၊ ဒုစရိုက်ဖြေရာ
ယဇ်ပြု၍ပူဇော်ရမည်။ အရင် ခြားနား ခြင်း
ပျက်သောကြောင့်၊ လွန်သော ကာလ ပျောက်ရ
မည်။
၁၃ ခြားနား၍ နေသော ကာလစေ့ပြီးမှ၊ နာဇရိ
လူ စောင့်ရသော တရား ဟူမူကား၊ သူသည်
ပရိသတ် စည်းဝေး ရာ တဲတော် တံခါး ရှေ့သို့
၁၄ လာ၍၊- မီးရှို့ရာယဇ်အဖို့အခါမလည်၊အပြစ်မ
ပါ သော သိုး သငယ် အထီးတကောင်၊ အပြစ်
ဖြေရာယဇ်အဖို့အခါမလည်၊အပြစ်မပါသောသိုး
သငယ် အမ တကောင်၊ မိဿဟာယယဇ်အဖို့
၁၅ အပြစ်မပါသောဆိတ်တကောင်၊- ဆီရောသော
မုန့်ညက်နှင့်လုပ်သောမုန့်ပြား၊ ဆီလူးသောတ
ဆေးမဲ့မုန့်ကြွပ်တဦးဟူသော၊ တဆေးမဲ့မုန့်တ
တောင်း၊ဘောဇဉ်ပူဇော်သကာ၊သွန်းလောင်း
ရာပူဇော်သကာကို ထာဝရဘုရားအားဆက်ရ
၁၆ မည်။-ထိုပူဇော်သကာများကို ယဇ်ပုရောဟိတ်
သည်ထာဝရဘုရားထံတော်သို့သွင်း၍၊အပြစ်

ခြေရာ ထမ်း၊ မီးရှို့ရာယဇ်ကို ပူဇော် ရမည်။-
၁၇ ထမင်းဆီနှင့် ရောသော မုန့်စိမ်းတတောင်း၊ နှင့်တကွ၊ မိဿဟာယ
ယဇ် ဆိတ်ကို၎င်း၊ ဘောဇဉ် ပူဇော် သက္ကာ၊
သွန်းလောင်းရာ ပူဇော် သက္ကာကို၎င်း၊ ထာဝရ
၁၈ ဘုရား အား ပူဇော် ရမည်။- နာဇရိ လူ သည်၊
ပရိသတ်စည်းဝေးရာ ထဲတော် တံခါးနားမှာ၊
မိမိခြားနားသော ဦးဆံကိုရိတ်၍၊ ထိုဆံကိုမိဿ
ဟာယယဇ်အောက်၌ ရှိသော မီးထဲမှာ ထည့်ရ
၁၉ မည်။- ခြားနားသော ဦးဆံကိုရိတ်ပြီးမှ၊ ယဇ်ပ
ရောဟိတ် သည် ပြုတ်သော ဆိတ် ပခုံး တ ဖက်၊
တောင်းထဲကတ ထမင်းဆီ မုန့်ပြားတပြား၊ ထမင်း
ဆီမုန့်ကြွပ်တချပ်ကို ယူ၍၊ နာဇရိ လူလက်၌
၂၀ ထည့်ပြီးလျှင်၊- ထာဝရဘုရားရှေ့တော်၌ ရှိုက်ယှက်
ရာ ပူဇော် သက္ကာဖြစ်စေခြင်းငှါ ရှိုက်ယှက်ရမည်။ ထိုအရာတို့
သည်၊ ရှိုက်ယှက်ရာရင်ပတ်၊ ရှိုက်ယှက်ရာပခုံးနှင့်တကွ၊
ယဇ်ပုရောဟိတ်အဘို့ သန့်ရှင်းရမည်။ ထိုနောက်
မှ၊ နာဇရိလူသည် စပျစ်ရည်ကို သောက်ရသော
၂၁ အခွင့်ရှိ၏။- ဤရွေ့ကား၊ သစ္စာပြုသော နာဇရိ
လူသည်၊ အလိုအလျောက် တတ်နိုင်သမျှမှတ
ပါး၊ မိမိခြားနားခြင်း အတွက်၊ ထာဝရဘုရား
အား ဆက်ရသော ပူဇော်သက္ကာနှင့် ဆိုင်သော
တရား ပေတည်း။ သစ္စာပြုသည်အတိုင်း၊ ခြား
နားခြင်း တရားနှင့် အညီ ပြုရမည်ဟု မိန့်တော်
မူ၏။
၂၂ တဖန် မောရှေအား၊ ထာဝရ ဘုရားက၊ သင်
သည်အာရုန်နှင့်သူ၏ သားတို့အား ဆင့်ဆိုရမည်
၂၃ မှာ၊-သင်တို့သည်၊ ဣသရေလအမျိုးသားတို့အား
ကောင်းကြီး ပေး၍ မြွက် ရသော စကား ဟူမူ
၂၄ ကား၊- ထာဝရ ဘုရား သည်၊ သင့်ကို ကောင်း
၂၅ ကြီးပေး၍စောင့်မတော်မူပါစေသော။- ထာဝရ
ဘုရားသည်၊ သင်၌ မျက်နှာတော် အလင်းကို
ထွန်း၍ ကရုဏာ ကျေးဇူး ပြုတော် မူပါ စေ
၂၆ သော၊-ထာဝရဘုရားသည်၊သင့်ကိုမျှော်ကြည့်
၂၇ ၍ချမ်းသာပေးတော်မူပါစေသောဟု၊- ဣသရေ
လ အမျိုးသားတို့ အပေါ်မှာ ငါ့နာမကိုမြွက်ဆို
၍တင်လျှင်၊ ငါသည် ထိုသူတို့ကို ကောင်းကြီး
မင်္ဂလာပေးမည်ဟု မိန့်တော်မူ၏။

၇

၁ မောရှေ သည်၊ ထဲတော်ကို ထူထောင်၍၊ ထဲ
တော်နှင့်ထဲတော်တန်ဆာရှိသမျှတို့ကို၎င်း၊ ယဇ်
ပလ္လင်နှင့် ယဇ်ပလ္လင်တန်ဆာ ရှိသမျှတို့ကို၎င်း
ဆီလူး၍၊ သန့်ရှင်းစေခြင်းအမှုကိုပြုသော

၂ သောနေ့၌၊- အခါလေးလောသောသူ့ကိုရေတွက်၍ ဣ
သရေလ အမျိုး၊ အနွယ် အကြီးအကဲ၊ တို့၌ မင်း
ဖြစ်သောသူ၊ အဆွေအမျိုးသူကြီးမင်းတို့သည်၊-
၃ မင်းထပါနွားထီးတကောင်စီ မင်းနှစ်ပါးအမျိုး
ပါသော ရထား တစီး၊ ရထား ခြောက်စီး၊ နွား
ဆယ် နှစ် ကောင်တို့ကို ထဲတော်ရှေ့သို့ ဆောင်ခဲ့
၍၊ ထာဝရဘုရားအား ပူဇော်သက္ကာပြုကြ၏။-
၄ ထာဝရ ဘုရားကလည်း၊ သင်သည် ပရိသတ်
၅ စည်းဝေးရာ ထဲတော်အမှု ဆောင် ရွက် စရာအိုမ်
ယူ၍၊ အမှုကိုဆောင်ရွက်ရသည်အတိုင်း၊ လေဝိ
သား၊ အသီးသီး၊ တို့အားပေးလော့ဟု မိန့်တော်
၆ မူ၏။-မောရှေသည်၊ ရထားနှင့်နွားတို့ကိုခံယူ၍၊
၇ လေဝိသားတို့အားပေးသဖြင့်၊-အမှုဆောင်ရွက်
စရာရှိသည်အတိုင်း၊ ယဇ်ပုရောဟိတ် အာရုန်၏
သား ဣသမာရ အုပ်သော ဂေရှုန် သားတို့အားရ
၈ ထားနှစ်စီးနှင့်နွားလေးကောင်တို့ကို၎င်း၊-မေရာ
ရိသားတို့အား ရထားလေးစီးနှင့်နွားရှစ်ကောင်
၉ တို့ကို၎င်းပေးလေ၏။-သန့်ရှင်းရာဌာနတော်အမှု
ကိုစောင့်ရသော ကောဟတ်သားတို့သည်၊ မိမိ
တို့ပခုံး၌ထမ်း၍ သွက်ရသောကြောင့်၊ သူတို့အား
ရထားနှင့်နွားတို့ ကိုမပေး။
၁၀ ယဇ်ပလ္လင်ကိုဆီလူးသောနေ့၌၊ အကြီးအကဲမင်း
ပြုစရာဘို့၊ ယဇ်ပလ္လင်ရှေ့မှာ၊ အခြားသောပူဇော်
၁၁ သက္ကာကို ပြုကြ၏။- ထာဝရဘုရားက လည်း၊
ယဇ်ပလ္လင်ကိုအနုမောဒနာပြုစရာဘို့၊ မင်းအသီး
အသီး တို့သည်၊ နေ့ရက်အစဉ်အတိုင်း၊ မိမိပူ
ဇော်သက္ကာကိုပြုရကြမည်ဟု၊ မောရှေအားမိန့်
၁၂ တော်မူ၏။- ထိုသို့နှင့်အညီ၊ ပဌမနေ့၌ ယုဒအ
မျိုး၊ အမိနဒပ်သား နာရှုန်သည် ဆက်သောပူ
၁၃ ဇော်သက္ကာဟူမူကား၊- အကျပ်တော် အလိုက်
တဆိသာ သုံးဆယ်အချိန်ရှိသောငွေအင်တုံ၊ ခု
နှစ်ဆယ်အချိန်ရှိသော ငွေဖလား၊ ဘောဇဉ်ပူ
ဇော်သက္ကာဘို့ ထိုအင်တုံ၊ ဖလား၌ဆီနှင့်ရော၍
၁၄ အပြည့် ထည့်သော မုန့်ညက်၊- မီးရှို့ရာနံ့သာ
ပေါင်းနှင့်ပြည့်၍ အကျပ်တဆယ်အချိန်ရှိသော
၁၅ ရွှေဇွန်း၊-မီးရှို့ရာ ယဇ်ဘို့ အသက် ပျိုသော နွား
ထီးတကောင်၊ သိုးထီးတကောင်၊ အခါမလည်
၁၆ သောသိုးသငယ်တကောင်၊- အပြစ်ဖြေရာယဇ်
၁၇ ဘို့ဆိတ်သငယ် တကောင်၊- မိဿဟာယယဇ်
ဘို့ နွား နှစ်ကောင်၊ သိုး ငါးကောင်၊ ဆိတ်ငါး
ကောင်၊ အခါမလည်သော သိုးသငယ်ငါးကောင်
တို့တည်း၊ အမိနဒပ်သား နာရှုန်သည် ပူဇော်သော

၁၈ ဒုတိယနေ့၌ ဣသခါအမျိုးတွင်မင်းဖြစ်သော၊
ဇုအာသား နာသနေလ ဆက်သော ပူဇော်သ
၁၉ က္ကာဟူမူကား၊-အကျပ်တော်အလိုက်တမိသော
သုံးဆယ်အချိန်ရှိသောငွေအင်တုံ၊ခုနှစ်ဆယ်အ
ချိန်ရှိသောငွေဖလား၊ ဘောဇဉ် ပူဇော်သက္ကာ
အဘို့ ထိုအင်တုံ၊ ဖလား၌ ဆီနှင့် ရော၍ အပြည့်
၂၀ ထည့်သောမုန့်ညက်၊- မီးရှို့ရာနံ့သာပေါင်းနှင့်
ပြည့်၍အကျပ်တဆယ်အချိန် ရှိသောရွှေဇွန်း၊-
၂၁ မီးရှို့ရာ ယဇ်အဘို့ အသက် ပျိုသော နွားထီးတ
ကောင်၊ သိုးထီးတကောင်၊ အခါမလည် သော
၂၂ သိုးသငယ် တကောင်၊- အပြစ်ဖြေရာ ယဇ်အဘို့
၂၃ ဆိတ်သငယ်တကောင်၊- မိဿဟာယ ယဇ်အဘို့
နွားနှစ်ကောင်၊သိုးငါးကောင်၊ဆိတ်ငါးကောင်၊
အခါမလည်သော သိုးသငယ်ငါးကောင်တို့ကို၊
ဇုအာသားနာသနေလသည်ပူဇော်လေ၏။
၂၄ တတိယနေ့၌ ဇာဗုလုန် အမျိုးတွင် မင်းဖြစ်
သောဟေလုန်သား ဧလျာဘ ဆက်သောပူဇော်
၂၅ သက္ကာ ဟူမူကား၊- အကျပ် တော် အလိုက် တ
မိသောသုံးဆယ်အချိန် ရှိသော ငွေအင်တုံ၊ခုနှစ်
ဆယ်အချိန်ရှိသောငွေဖလား၊ဘောဇဉ်ပူဇော်
သက္ကာအဘို့ ထိုအင်တုံ၊ဖလား၌ ဆီနှင့်ရော၍ အ
၂၆ ပြည့်ထည့်သောမုန့်ညက်၊-မီးရှို့ရာနံ့သာပေါင်း
နှင့်ပြည့်၍ အကျပ် တဆယ် အချိန်ရှိသော ရွှေ
၂၇ ဇွန်း၊-မီးရှို့ရာယဇ်အဘို့ အသက်ပျိုသောနွားထီး
တကောင်၊သိုးထီးတကောင်၊အခါမလည်သော
၂၈ သိုးသငယ် တကောင်၊- အပြစ်ဖြေရာ ယဇ်အဘို့
၂၉ ဆိတ်သငယ် တကောင်၊- မိဿဟာယယဇ်အဘို့
နွားနှစ်ကောင်၊သိုးငါးကောင်၊ဆိတ်ငါးကောင်၊
အခါမလည်သောသိုးသငယ် ငါးကောင်တို့ကို၊
ဟေလုန်သား၊ဧလျာဘသည်ပူဇော်လေ၏။
၃၀ စတုတ္ထနေ့၌ရုဗင်အမျိုးတွင်မင်းဖြစ်သော၊ရှေ
ဒုရသား ဧလိဇုရဆက်သောပူဇော်သက္ကာဟူမူ
၃၁ ကား၊- အကျပ် တော် အလိုက် တမိသော သုံး
ဆယ်အချိန် ရှိသော ငွေအင်တုံ၊ ခုနှစ်ဆယ်အ
ချိန်ရှိသောငွေဖလား၊ ဘောဇဉ် ပူဇော်သက္ကာ
အဘို့ထိုအင်တုံ၊ဖလား၌ဆီနှင့်ရော၍အပြည့်ထည့်
၃၂ သောမုန့်ညက်၊- မီးရှို့ရာနံ့သာပေါင်းနှင့် ပြည့်
၃၃ ၍အကျပ်တဆယ် အချိန်ရှိသောရွှေဇွန်း၊-မီးရှို့
ရာယဇ်အဘို့ အသက်ပျိုသော နွားထီးတကောင်၊
သိုးထီးတကောင်၊အခါမလည်သောသိုးသငယ်
၃၄ တကောင်၊- အပြစ်ဖြေရာယဇ်အဘို့ ဆိတ်သငယ်
၃၅ တကောင်၊-မိဿဟာယယဇ်အဘို့နွားနှစ်ကောင်၊
သိုးငါးကောင်၊ ဆိတ်ငါးကောင်၊ အခါမလည်
သော သိုးသငယ် ငါးကောင်တို့ကို၊ ရှေဒုရသား
ဧလိဇုရသည်ပူဇော်လေ၏။
၃၆ ပဉ္စမနေ့၌ရှိမောင်အမျိုးတွင် မင်းဖြစ်သော၊
ဇုရိရှဒ္ဒဲသား၊ ရှေလုမျေလ ဆက်သော ပူဇော်သ
၃၇ က္ကာဟူမူကား၊-အကျပ်တော်အလိုက်တမိသော
သုံးဆယ် အချိန်ရှိသောငွေအင်တုံ၊ ခုနှစ်ဆယ်
အချိန်ရှိသော ငွေဖလား၊ ဘောဇဉ် ပူဇော်သ
က္ကာအဘို့ ထိုအင်တုံ၊ ဖလား၌ ဆီ နှင့် ရော ၍ အ
၃၈ ပြည့်ထည့်သောမုန့်ညက်၊-မီးရှို့ရာနံ့သာပေါင်း
နှင့် ပြည့်၍ အကျပ် တဆယ် အချိန် ရှိသော ရွှေ
၃၉ ဇွန်း၊-မီးရှို့ရာယဇ်အဘို့အသက်ပျိုသောနွားထီး
တကောင်၊သိုးထီးတကောင်၊အခါမလည်သော
၄၀ သိုးသငယ် တကောင်၊- အပြစ်ဖြေရာ ယဇ်အဘို့
၄၁ ဆိတ်သငယ်တကောင်၊- မိဿဟာယယဇ်အဘို့
နွားနှစ်ကောင်၊သိုးငါးကောင်၊ဆိတ်ငါးကောင်၊
အခါမလည်သော သိုးသငယ်ငါးကောင်တို့ကို၊
ဇုရိရှဒ္ဒဲသား၊ရှေလုမျေလသည်ပူဇော်လေ၏။
၄၂ ဆဋ္ဌမနေ့၌ ဂဒ်အမျိုးတွင်မင်းဖြစ်သော၊ ဒွေ
လသား၊ဧလျာသပ်ဆက်သော ပူဇော်သက္ကာဟူ
၄၃ မူကား၊- အကျပ်တော်အလိုက် တမိသော သုံး
ဆယ်အချိန်ရှိသောငွေအင်တုံ၊ခုနှစ်ဆယ်အချိန်
ရှိသောငွေဖလား၊ ဘောဇဉ် ပူဇော်သက္ကာအဘို့
ထိုအင်တုံ၊ဖလား၌ ဆီနှင့်ရော၍ အပြည့်ထည့်
၄၄ သောမုန့်ညက်၊-မီးရှို့ရာနံ့သာပေါင်းနှင့်ပြည့်၍
၄၅ အကျပ်တဆယ်အချိန်ရှိသောရွှေဇွန်း၊- မီးရှို့ရာ
ယဇ်အဘို့အသက်ပျိုသောနွားထီးတကောင်၊သိုး
ထီးတကောင်၊အခါမလည်သော သိုးသငယ်တ
၄၆ ကောင်၊- အပြစ်ဖြေရာယဇ်အဘို့ဆိတ်သငယ်တ
၄၇ ကောင်၊-မိဿဟာယယဇ်အဘို့ နွားနှစ်ကောင်၊
သိုးငါးကောင်၊ ဆိတ်ငါးကောင်၊ အခါမလည်
သောသိုးသငယ်ငါးကောင်တို့ကို၊ ဒွေလသား၊ဧ
လျာသပ်သည်ပူဇော်လေ၏။
၄၈ သတ္တမနေ့၌ ဧဖရိမ်အမျိုးတွင်မင်းဖြစ်သော၊
အမိဟုဒ်သား ဧလိရှမာ ဆက် သော ပူဇော် သ
၄၉ က္ကာဟူမူကား၊-အကျပ်တော်အလိုက်တမိသော
သုံးဆယ်အချိန်ရှိသောငွေအင်တုံ၊ခုနှစ်ဆယ်အ
ချိန်ရှိသောငွေဖလား၊ ဘောဇဉ်ပူဇော်သက္ကာ
အဘို့ထိုအင်တုံ၊ဖလား၌ဆီနှင့်ရော၍အပြည့်ထည့်
၅၀ သောမုန့်ညက်၊- မီးရှို့ရာ နံ့သာပေါင်းနှင့်ပြည့်
၅၁ ၍အကျပ်တဆယ် အချိန်ရှိသောရွှေဇွန်း၊- မီးရှို့
ရာ ယဇ်အဘို့အသက်ပျိုသော နွားထီးတကောင်၊

သိုးထီးတကောင်း၊ အခါမလည်သောသိုးသငယ်
၅၂ တကောင်း၊- အပြစ်ဖြေရာယဇ်အို့ဆိတ်သငယ်
၅၃ တကောင်း၊- မိဿတာဝ ယဇ်အို့ နွားနှစ်ကောင်း၊ သိုးငါးကောင်း၊ ဆိတ်ငါးကောင်း၊ အခါမလည်သော သိုးသငယ်ငါးကောင်တို့ကို၊ အမိဟုဒ်သား ဧလိရှမာသည်ပူဇော်လေ၏။
၅၄ အဋ္ဌမနေ့၌ မနာရှေအမျိုးတွင် မင်းဖြစ်သော၊ ပေဒါဇုရသား ဂါမလျေလဆက်သော ပူဇော်သ
၅၅ ကာဟူမူကား၊- အကျွပ်တော်အလိုက်တပိဿာသုံးဆယ်အချိန်ရှိသောငွေအင်တုံ၊ ခုနစ်ဆယ်အချိန်ရှိသောငွေဖလား၊ သောရဇည်ပူဇော်သကာအို့ထိုအင်တုံ၊ ဖလား၌ဆီနှင့်ရော၍အပြည့်ထည့်
၅၆ သောဇွန်ညတ်၊- မီးရှို့ရာနံ့သာပေါင်းနှင့်ပြည့်၍
၅၇ အကျွပ်တဆယ် အချိန်ရှိသောရွှေဇွန်း၊- မီးရှို့ရာယဇ်အို့အသက်ပျိုသောနွားထီးတကောင်း၊ သိုးထီးတကောင်း၊ အခါမလည်သောသိုးသငယ်တ
၅၈ ကောင်း၊- အပြစ်ဖြေရာယဇ်အို့ ဆိတ်သငယ်တ
၅၉ ကောင်း၊- မိဿတာဝယဇ်အို့နွားနှစ်ကောင်း၊ သိုးငါးကောင်း၊ ဆိတ်ငါးကောင်း၊ အခါမလည်သော သိုးသငယ် ငါးကောင်တို့ကို၊ ပေဒါဇုရသားဂါမလျေလသည်ပူဇော်လေ၏။
၆၀ နဝမနေ့၌ ဗင်္ယာမိန်အမျိုးတွင် မင်းဖြစ်သော ဂိဒေါနိသား အဘိဒန် ဆက်သော ပူဇော်သကာ
၆၁ ဟူမူကား၊- အကျွပ်တော်အလိုက်တပိဿာသုံးဆယ်အချိန်ရှိသောငွေအင်တုံ၊ ခုနစ်ဆယ်အချိန်ရှိသောငွေဖလား၊ သောရဇည် ပူဇော်သကာအို့ထိုအင်တုံ၊ ဖလား၌ဆီနှင့်ရော၍ အပြည့်ထည့်
၆၂ သောဇွန်ညတ်၊- မီးရှို့ရာနံ့သာပေါင်းနှင့်ပြည့်၍
၆၃ အကျွပ်တဆယ်အချိန်ရှိသောရွှေဇွန်း၊- မီးရှို့ရာယဇ်အို့အသက်ပျိုသော နွားထီးတကောင်း၊ သိုးထီးတကောင်း၊ အခါမလည်သော သိုးသငယ်တ
၆၄ ကောင်း၊- အပြစ်ဖြေရာယဇ်အို့ ဆိတ်သငယ်တ
၆၅ ကောင်း၊- မိဿတာဝယဇ်အို့ နွားနှစ်ကောင်း၊ သိုးငါးကောင်း၊ ဆိတ်ငါး ကောင်း၊ အခါမလည်သောသိုးသငယ်ငါးကောင်တို့ကို၊ ဂိဒေါနိသား အဘိဒန်သည်ပူဇော်လေ၏။
၆၆ ဒသမနေ့၌ဒန်အမျိုးတွင်မင်းဖြစ်သော၊ အမိရှဒ္ဒဲသား အဟေဇာဆက်သော ပူဇော်သကာဟူမူ
၆၇ ကား၊- အကျွပ်တော်အလိုက်တပိဿာသုံးဆယ် အချိန်ရှိသော ငွေအင်တုံ၊ ခုနစ်ဆယ် အချိန်ရှိ သောငွေဖလား၊ သောရဇည်ပူဇော်သကာအို့ထို အင်တုံ၊ ဖလား၌ ဆီနှင့် ရော၍ အပြည့် ထည့်
၆၈ သော ဇွန်ညတ်၊- မီးရှို့ရာနံ့သာပေါင်းနှင့် ပြည့်၍
၆၉ အကျွပ်တဆယ်အချိန်ရှိသော ရွှေဇွန်း၊- မီးရှို့ရာယဇ်အို့ အသက်ပျိုသော နွားထီးတကောင်း၊ သိုးထီးတကောင်း၊ အခါမလည်သောသိုးသငယ်
၇၀ တကောင်း၊- အပြစ်ဖြေရာယဇ်အို့ ဆိတ်သငယ်
၇၁ တကောင်း၊- မိဿတာဝ ယဇ်အို့ နွား နှစ်ကောင်း၊ သိုးငါးကောင်း၊ ဆိတ်ငါးကောင်း၊ အခါမလည်သော သိုးသငယ် ငါးကောင်တို့ကို၊ အမိရှဒ္ဒဲသား အဟေဇာသည်ပူဇော်လေ၏။
၇၂ ဧကာဒသမနေ့၌ အာရှာအမျိုးတွင် မင်းဖြစ်သော၊ ဩကရန်သား ပါဂျေလဆက်သောပူဇော်
၇၃ သကာ ဟူမူကား၊- အကျွပ်တော်အလိုက် တပိဿာသုံးဆယ်အချိန်ရှိသော ငွေအင်တုံ၊ ခုနစ် ဆယ်အချိန်ရှိသောငွေဖလား၊ သောရဇည်ပူဇော် သကာအို့ ထိုအင်တုံ၊ ဖလား၌ ဆီနှင့်ရော၍ အ
၇၄ ပြည့်ထည့်သောဇွန်ညတ်၊- မီးရှို့ရာနံ့သာပေါင်း နှင့်ပြည့်၍ အကျွပ် တဆယ် အချိန်ရှိသော ရွှေ
၇၅ ဇွန်း၊-မီးရှို့ရာယဇ်အို့ အသက်ပျိုသောနွားထီး တကောင်း၊ သိုးထီးတကောင်း၊ အခါမလည်သော
၇၆ သိုးသငယ် တကောင်း၊- အပြစ်ဖြေရာ ယဇ်အို့
၇၇ ဆိတ် သငယ် တကောင်း၊- မိဿ တာဝ ယဇ် အို့ နွားနှစ်ကောင်း၊ သိုး ငါး ကောင်း၊ ဆိတ်ငါး ကောင်း၊ အ ခါ မ လည် သော သိုး သ ငယ် ငါး ကောင် တို့ကို၊ ဩကရန်သား ပါဂျေ လ သည် ပူဇော်လေ၏။
၇၈ ဒွါဒသမနေ့၌နဿလိအမျိုးတွင်မင်းဖြစ်သော၊ ဧနန်သား အဟိရဆက်သော ပူဇော်သကာဟူ
၇၉ မူကား၊- အကျွပ်တော် အလိုက် တပိဿာသုံး ဆယ် အချိန်ရှိသော ငွေအင်တုံ၊ ခုနစ် ဆယ်အ ချိန်ရှိသောငွေဖလား၊ သောရဇည်ပူဇော်သကာ အို့ထိုအင်တုံ၊ ဖလား၌ဆီနှင့်ရော၍ အပြည့်ထည့်
၈၀ သောဇွန်ညတ်၊- မီးရှို့ရာနံ့သာပေါင်းနှင့် ပြည့်
၈၁ ၍အကျွပ်တဆယ် အချိန်ရှိသောရွှေဇွန်း၊- မီးရှို့ ရာယဇ်အို့ အသက်ပျိုသော နွားထီးတကောင်း၊ သိုးထီးတကောင်း၊ အခါမလည်သောသိုးသငယ်
၈၂ တကောင်း၊- အပြစ်ဖြေရာယဇ်အို့ဆိတ်သငယ်
၈၃ တကောင်း၊-မိဿတာဝယဇ်အို့နွားနှစ်ကောင်း၊ သိုးငါးကောင်း၊ ဆိတ် ငါးကောင်း၊ အခါမလည် သောသိုးသငယ်ငါးကောင်တို့ကို၊ ဧနန်သားအ ဟိရသည်ပူဇော်လေ၏။
၈၄ ထိုသို့ဣသရေလအမျိုးတို့၌မင်းဖြစ်သောသူတို့ သည်၊ ယဇ်ပလ္လင်ကိုဆီလူးသောနေ့၌ အနေအာ

ဌာန၌ ရာထိုးဆတ်သောငွေအစိတ်ပေါင်း၊ ဆယ်
နှစ်ထုံး၊ ငွေခွက်ပေါင်း၊ ဆယ်နှစ်ထုံး၊ ရွှေဇွန်း
၈၅ ပေါင်း၊ ဆယ်နှစ်စင်းတည်း။- ငွေအင်တုံ အချိန်
ကား တလုံးလျှင် တပိဿာ သုံးဆယ်စီ၊ ငွေဖ
လားအချိန်ကား၊ တလုံးလျှင် ခုနှစ်ဆယ်စီရှိ၍၊
ငွေချိန် ပေါင်းကား၊ အကျပ်တော် အလိုက်၊ အ
၈၆ ခွတ်နှစ်ဆယ်လေးပိဿာရှိသတည်း။- မီးမွှေးရာ
နံ့သာပေါင်းနှင့်ပြည့်သောရွှေဇွန်း၊ ဆယ်နှစ်စင်း
အချိန်ကား၊ အကျပ်တော်အလိုက်၊ ဆယ်ကျပ်
စီရှိ၍၊ ရွှေချိန်ပေါင်းကား၊ တပိဿာနှစ်ဆယ်ရှိ
၈၇ သတည်း။- မီးရှို့ရာယဇ်အဘို့ဘောဇဉ်ပူဇော်သ
ကာနှင့်တကွနွားပေါင်း၊ ဆယ်နှစ်ကောင်၊ သိုး
ထီးဆယ်နှစ်ကောင်၊ အခါမလည်သော သိုးသ
ငယ်ဆယ်နှစ်ကောင်၊ အပြစ်ဖြေရာယဇ်အဘို့ဆိတ်
၈၈ သငယ်ပေါင်း၊ ဆယ်နှစ်ကောင်၊- မိဿဟာယ
ယဇ်အဘို့နွားပေါင်း၊ နှစ်ဆယ်လေးကောင်၊ သိုး
ထီးခြောက်ဆယ်၊ ဆိတ်ထီးခြောက်ဆယ်၊ အခါ
မလည်သော သိုး သငယ် ခြောက်ဆယ် ရှိသ
တည်း။ ဤရွေ့ကား၊ ယဇ်ပလ္လင်ကိုဆီလူးသော
နောက်၊ အနုမောဒနာပြုတို့ဆက်သောပူဇော်သ
၈၉ ကာပေတည်း။- မောရှေသည် ဘုရားသခင်ကို
လျှောက်ခြင်းငှါပရိသတ်စည်းဝေးရာတဲတော်
ထဲသို့ဝင်သောအခါ၊ ခေရုဗိမ်နှစ်ပါး ကြားမှာ၊
သက်သေခံချက် သေတ္တာ ပေါ်၌ တင် သော အ
ဖုံးအထက်က၊ ဘုရား သခင်ခေါ်တော် မူသံကို
မောရှေသည်ကြား၍ထူးလေ၏။

၈

ထာဝရ ဘုရားကလည်း၊ သင်သည အာရုန်
အား ဆင့်ဆိုရမည်မှာ၊- မီးခွက် များကို ထွန်း
သောအခါ၊ မီးခွက်ခုနှစ်လုံးတို့သည်မီးခုံတဖက်
၃ တချက်၌ ထွန်းထင်းရမည်ဟု၊- မောရှေ အား
မှာထားတော်မူသည်အတိုင်း၊ အာရုန်ပြု၍မီးခုံ
တဖက် တချက်၌ မီးခွက်များကို ထွန်းလေ၏။-
၄ မီးခုံမူကား၊ ထာဝရဘုရားသည် မောရှေအား
ပြတော်မူသောပုံနှင့်အညီ၊ မီးခုံတိုင်မှစ၍ကြာ
ပွင့် တိုင်အောင်၊ ရွှေဖြင့် တစပ် တည်း ထုလုပ်
သောမီးခုံဖြစ်သတည်း။
၅ ထာဝရဘုရားသည် မောရှေအား မိန့်တော်မူ
၆ သည်ကား၊- လေဝိသားတို့ကို၊ ဣသရေလ အ
မျိုးသားတို့အထဲကရွေးကောက်၍ စင်ကြယ်စေ
၇ လော့။- စင်ကြယ်စေခြင်းငှါပြုရမည်သော အမှုမှာ
ကား၊ စင်ကြယ်ခြင်းမင်္ဂလာရေကိုသူတို့အပေါ်

မှာဖြန်း၍၊ သူတို့သည် တကိုယ်လုံးကို အမွေး
ရိတ်ခြင်း၊ အဝတ် လျှော်ခြင်းကို ပြုသဖြင့် စင်
၈ ကြယ်စေရမည်။- ဆီရောသော မုန့်ညက်တည်း
ဟူသော၊ ဘောဇဉ်ပူဇော်သကာနှင့်တကွ၊ အ
သက်ပျို သော နွားထီး တကောင်၊ အပြစ်ဖြေရာ
ယဇ်အဘို့အသက်ပျိုသော နွားထီး တကောင်ကို
၉ ယူပြီးလျှင်၊- လေဝိသားတို့ကို၊ ပရိသတ်စည်း
ဝေးရာ တဲတော်ရှေ့သို့ ခေါ်ခဲ့၍၊ ဣသရေလအ
မျိုးသားပရိသတ် အပေါင်းတို့ကို စည်းဝေးစေ
၁၀ ပြီးမှ၊- လေဝိ သားတို့ကို၊ ထာဝရ ဘုရား ရှေ့
တော်သို့ဆောင်ခဲ့၍၊ သူတို့ခေါင်းပေါ်မှာ၊ ဣသ
ရေလအမျိုးသားတို့သည်လက်ကိုတင်သဖြင့်၊-
၁၁ သူတို့သည်ထာဝရဘုရား၏ အမှုတော်ကိုထမ်း
စေခြင်းငှါ၊ ဣသရေလအမျိုးသားတို့ ပြုသောပူ
ဇော်သကာတည်း ဟူသော၊ လေဝိသားတို့ကို
အာရုန်သည်ထာဝရဘုရားအားဆက်ရမည်။-
၁၂ လေဝိသားတို့သည်လည်း၊ နွားခေါင်းပေါ်မှာ
မိမိတို့လက်ကိုတင်၍၊ သူတို့အဘို့အပြစ်ဖြေခြင်း
ကို ပြုလိုသောငှါ၊ ထာဝရဘုရားရှေ့မှာ နွားတ
ကောင်ကိုအပြစ်ဖြေရာယဇ်၊ တကောင်ကိုမီးရှို့
၁၃ ရာယဇ်ပြု၍၊ ပူဇော်ရကြမည်။- လေဝိသားတို့
ကို၊ အာရုန်နှင့်သူ၏ သားတို့ရှေ့မှာထား၍၊ ထာ
၁၄ ဝရဘုရားအား ပူဇော်သကာ ပြုရမည်။- ထိုသို့
လေဝိသားတို့ကို၊ ဣသရေလ အမျိုးသားတို့နှင့်
တခြားစီခွဲထား၍၊ သူတို့သည်အထူးသဖြင့်ငါ့လူ
၁၅ ဖြစ်ရကြလိမ့်မည်။- ထိုနောက်မှ လေဝိသားတို့
သည်၊ ပရိသတ်စည်းဝေးရာ တဲတော်အမှုကို
ဆောင်ရွက်ခြင်းငှါ ဝင်ရကြလိမ့်မည်။ သူတို့ကို
စင် ကြယ် စေ၍၊ ပူဇော် သကာ ပြုရ သော အ
၁၆ ကြောင်း ဟူမူကား။- ဣသရေလ အမျိုး ထဲက
သူတို့ကို ရွေး ကောက်၍၊ ငါ့အား အပိုင် ပေးရ
မည်၊ ဣသရေလအမျိုးတွင်အဦးဖွားမြင်သော
သားဦးများအတွက်၊ သူတို့ကို ငါသိမ်းယူ၏။-
၁၇ အဲဂုတ္တုပြည်၌သားဦးအပေါင်းတို့ကိုငါသည်
ဒဏ်ခတ်သောအခါ၊ ဣသရေလအမျိုးတွင်လူ
ဖြစ်စေ၊ တိရစ္ဆာန်ဖြစ်စေ၊ သားဦးအပေါင်းတို့
ကိုကိုယ်အဘို့သန့်ရှင်းစေသောကြောင့်၊ သားဦး
၁၈ အပေါင်းတို့ကို အထူးသဖြင့် ငါပိုင်ရမည်။- တ
ဖန်ဣသရေလ အမျိုးသားဦး အပေါင်းတို့ အ
၁၉ တွက်၊ လေဝိသားတို့ကို ငါယူ၏။- သူတို့ သည်
လည်း၊ ပရိသတ်စည်းဝေးရာတဲတော်၌၊ ဣသ
ရေလ အမျိုးသား ဆောင်ရွက် ရသော အမှုကို

စေသင့် ရှုတ် စေခြင်း ငှါရင်၊ ဣသရေလ အမျိုး
သားတို့အညီ ထန့်ရှင်းရာ ဌာန တော်သို့ ချဉ်း
ထပ် သော အခါ၊ ထေားဘေးထိ နှင့် ထွတ် မည်အ
ကြောင်း၊ အပြစ်ဖြေခြင်းကို ပြုစေခြင်းငှါရင်၊ ဣ
သရေလအမျိုးထဲက လေဝိသားတို့ကို၊ အာရုန်
နှင့် သူ၏ သား တို့အား ဒွန် ကြ လေး ကမ်း သည်
၂၀ ထု၊-လေဝိသားအမှု၌၊ထာဝရဘုရားသည်မော
ရှေအားမှာထား တော်မူသည် အတိုင်း၊ မောရှေ
နှင့်အာရုန်အစရှိသော၊ ဣသရေလအမျိုးသား
ပရိသတ်အပေါင်းတို့သည်လေဝိသားတို့ကိုပြု
၂၁ ကြလျှင်-သူတို့သည်စင်ကြယ်ခြင်းသို့ရောက်၍
မိမိတို့ အဝတ်ကို လျှော် ကြ၏၊ အာရုန် သည်
ထပ်ဦး၊သူတို့ကိုထာဝရဘုရားအားဆက်ကပ်၍၊
သူတို့အဖို့ အပြစ်ဖြေခြင်းကို ပြုသဖြင့်စင်ကြယ်
၂၂ စေတော်၏-ထိုနောက်မှ လေဝိသားတို့သည်၊အာ
ရုန်နှင့်သူ၏သား ဦးရှေ့၌၊ ပရိသတ် စည်းဝေး
ရာထဲတော် အမှုကို ဆောင်ရွက် ခြင်းငှါ ဝင် ကြ
၏၊ လေဝိသား တို့အမှု၌ ထာဝရ ဘုရားသည်
မောရှေအား မှာထားတော် မူသည်အတိုင်း၊ လု
အပေါင်းတို့သည်ပြုကြ၏။
၂၃ ထိုနောက် ထာဝရဘုရားသည် မောရှေအား မိန့်
၂၄ တော် မူသည်ကား၊- လေဝိသားတို့သည်၊ အ
သက် နှစ်ဆယ် ငါးနှစ်လွန်မှ၊ ပရိသတ်စည်း
ဝေးရာထဲတော်အမှုကိုဆောင်ရွက်ခြင်းငှါ ဝင်ရ
၂၅ ကြမည်၊-အသက်ငါးဆယ်လွန်မှ၊ အမှုလွှတ်၍
နောက်တစ်ဖန် မဆောင်ရွက်ဘဲ၊ ပရိသတ်စည်း
ဝေးရာထဲတော်၌ မိမိညီအစ်ကိုတို့နှင့်အတူ ကူ
ညီ၍ အစောင့်အစည့်စောင့်ရကြမည်၊ ထိုသို့လေ
ဝိသားများစောင့်ရသော အမှုကို စီရင်ရမည်ဟု
မိန့်တော်မူ၏။

၉

၁ အဲဂုတ္တုပြည်မှ ထွက်၍ ဒုတိယ နှစ်၊ ပဌမလ၌
ထိန်တောထွင် ထာဝရဘုရားသည် မောရှေအား
၂ မိန့်တော် မူသည် ကား၊- ဣသရေလ အမျိုးသား
တို့သည်၊ ချိန်းချက်သော ကာလအချိန်၌၊ ပသ
၃ ခါပွဲကိုခံရကြမည်၊- စီရင်ထုံးဖွဲ့သမူသော ထုံး
စံအတိုင်း၊ ချိန်းချက်သောကာလ အချိန်တည်း
ဟူသော၊ ထိုလ ၏ တဆယ်လေးရက်နေ့ ညဦးယံ
၄ ၌စောင့်ရကြမည်ဟုမိန့်တော်မူ၏၊- ဣသရေလ
အမျိုးသား တို့သည် ပသခါ ပွဲကို ခံရမည် အ
၅ ကြောင်း၊ မောရှေဆင့်ဆိုသည်အတိုင်း၊- ထိုနှ
စ်ပဌမလ၊ တဆယ်လေးရက် နေ့ညဦး၊
၌ ပသခါ ပွဲကိုခံရကြ၏၊ မောရှေအား ထာဝရ
ဘုရားမှာထားတော်မူသမျှအတိုင်း၊ ဣသရေလ
အမျိုးသားတို့သည်ပြုကြ၏။
၆ ထိုနေ့၌ ပသခါပွဲကိုမခံရမည်အကြောင်း၊ လူ
အသေကောင်အားဖြင့် ညစ်ညူးခြင်းသို့ ရောက်
သောလူ အချို့ တို့သည်၊ ထိုနေ့၌မောရှေ နှင့် အာ
၇ ရုန်ထံသို့ချဉ်းကပ်၍၊- အကျွန်ုပ်တို့သည်လူအ
သေကောင်အားဖြင့် ညစ်ညူးခြင်းရှိပါ၏၊ ချိန်း
ချက်သောအချိန်၌ ဣသရေလအမျိုးသားတို့နှင့်
အတူ၊ ထာဝရဘုရားအားပူဇော်သကာကို မပြု
စေခြင်းငှါ၊အကျွန်ုပ်တို့ကို ဆီးတားပါမည်လော
၈ ဟုမေးလျှောက်ကြ၏၊-မောရှေကလည်း၊နေကြ
ဦး၊ငှေ၊သင်တို့အမှု၌ ထာဝရဘုရား မိန့်တော်
မူသောစကားကိုငါနား ထောင်ဦးမည်ဟုပြန်ဆို
၉ ၏၊-ထိုအခါမောရှေအား ထာဝရဘုရားက၊သင်
သည် ဣသရေလ အမျိုးသား တို့အား ဆင့်ဆိုရ
၁၀ မည်မှာ၊-သင်တို့အမျိုးသားသည်အသေကောင်
အားဖြင့် ညစ်ညူးခြင်းရှိသော်၎င်း၊ ဝေးသောအ
ရပ်သို့ခရီးသွားသော်၎င်း၊ ထာဝရဘုရားအဖို့ပ
၁၁ သခါပွဲကိုခံရမည်၊- ဒုတိယလ၊ တဆယ် လေး
ရက်နေ့ ညဦးယံ၌ ပွဲခံ၍၊ သိုးသငယ်အသားကို
တဆေးမပါသောမုန့်၊ ခါးသောဟင်းသီး ဟင်း
၁၂ ရွက်နှင့် စားရမည်၊- ထိုအသားကို နံနက်တိုင်
အောင်မကြွင်းစေရ၊အရိုးကိုလည်းမချိုးရ၊ပသ
ခါပွဲနှင့်ဆိုင်သောအထုံးဖွဲ့ရှိသမျှတို့ကိုလိုက်
၁၃ ၍ပွဲခံရသောအခွင့်ရှိ၏၊- ညစ်ညူးခြင်းမရှိ၊အ
ခြားတပါးသို့ခရီးမသွားသောသူသည်၊ပသခါပွဲ
ကိုမခံဘဲနေလျှင်၊ထိုသူကိုသူ၏အမျိုးမှပယ်ရှင်း
ရမည်၊ ချိန်းချက်သောအချိန်၌ထိုသူသည်၊ထာ
ဝရဘုရားအဖို့ပူဇော်သကာကို မဆောင်ခဲ့သော
၁၄ ကြောင့်၊ မိမိအပြစ်ကို ခံရမည်၊- သင်တို့ထံ မှာ
တည်းခိုသော တပါးအမျိုး သားသည်၊ ထာဝရ
ဘုရား အဖို့ပသခါပွဲကိုခံခြင်းငှါအလိုရှိလျှင်၊စီ
ရင်ထုံးဖွဲ့၍ ခံရသော ထုံးစံအတိုင်း ပွဲ ခံရမည်၊
သင်တို့တွင်တည်းခိုသော တပါးအမျိုးသား ဖြစ်
သောသူ၊ အမျိုးသားစစ်ဖြစ်သော သူတို့သည်၊
ထုံးစံတပါးတည်းသာ ရှိရကြမည်ဟု မိန့်တော်
မူ၏။
၁၅ တဲတော်ကို ထူထောင် သောနေ့၌၊ မိုဃ်းတိမ်
သည်တဲတော်ပေါ်မှာ တည်၍၊ သက်သေခံ ချက်
တဲတော်ထိုပုံးဖုံးလွှမ်းသော်၏၊ညဦးမှစ၍နံနက်တိုင်
၁၆ အောင်၊တဲတော်ပေါ်မှာမီးကဲ့သို့ဆင်သော်၏၊-ထို

ထိုအခါ ညဦးမြစ်၍ နံနက်တိုင်အောင် မိုဃ်းတိမ်ဖုံးအုပ်
လျှက်၊ ညအမှိန်၌ မီးကဲ့သို့ ထင်လျှက် ရှိ၏၊-
၁၇ မိုဃ်းတိမ်သည် ထဲတော်အပေါ်မှ ကွာပြောင်
သောအခါ၊ ဣသရေလအမျိုးသားတို့သည် ခရီး
သွားကြ၏၊ မိုဃ်းတိမ်တပ်ဝေရာရာ၌ တည်း။
၁၈ ထဲများကို ဆောက်ပြင်ကြ၏၊- ထာဝရဘုရား
မိန့် တော် မူသည့် အတိုင်း၊ ဣသ ရေလ အ မျိုး
သားတို့သည် ခရီးသွားကြ၏၊ ထာဝရဘုရား၏မိန့်
တော်မူသည့်အတိုင်းလည်း၊ ထဲများကို ဆောက်
ကြ၏၊ မိုဃ်းတိမ်သည်ထဲတော်အပေါ်မှာတည်
နေသမျှသောကာလပတ်လုံး၊ သူတို့သည်ထဲ၌နေ
၁၉ ကြ၏၊- မိုဃ်းတိမ်သည်ထဲတော်အပေါ်မှာနေ့
ရက်ကြာမြင့်စွာ တည်နေသောအခါ၊ ဣသရေလ
အမျိုးသားတို့သည် ခရီးမသွားဘဲ၊ ထာဝရဘုရား၏
၂၀ ထံတော်၌ စောင့်နေကြ၏၊- မိုဃ်းတိမ်သည်ထဲ
တော်အပေါ်မှာ နေ့ရက်အနည်းငယ်မျှ တည်နေ
သောအခါ၊ ထာဝရဘုရား၏ အမိန့်တော်အတိုင်း၊
သူတို့သည် ထဲ၌နေကြ၏၊ ထာဝရဘုရား၏ အမိန့်
၂၁ တော်အတိုင်း ထဦး၊ ခရီးသွားကြ၏၊- ညဦးယံ
မှစ၍ နံနက် အမှိန်တိုင်အောင် မိုဃ်းတိမ်တည်
နေ၍၊ နံနက်အမှိန်၌ပြောင်သော အခါ၊ ခရီး
သွားကြ၏၊ နေ့မြစ်စေ၊ ညမြစ်စေ၊ မိုဃ်းတိမ်
၂၂ ပြောင်သောအခါ ခရီးသွားကြ၏၊- နှစ်ရက်ဖြစ်
စေ၊ တလဖြစ်စေ၊ တနှစ်ဖြစ်စေ၊ မိုဃ်းတိမ်သည်
ထဲတော်ပေါ်မှာ တည်နေသမျှသော ကာလပတ်
လုံး၊ ဣသရေလအမျိုးသားတို့သည် ခရီးမသွား
ဘဲ ထဲ၌နေကြ၏၊ တဖန် မိုဃ်းတိမ်ပြောင် ပြန်
၂၃ သောအခါ၊ ခရီးသွားကြ၏၊- ထာဝရဘုရား၏အ
မိန့်တော်အတိုင်း ထဲ၌နေကြ၏၊ ထာဝရဘုရား၏
အမိန့် တော် အတိုင်း ထည်း၊ ခရီး သွား ကြ ၏၊
ထာဝရဘုရားသည် မောရှေအားဖြင့် မိန့်တော်
မူသည့်အတိုင်း၊ ထာဝရဘုရား၏ အထံ တော် ၌
စောင့်နေကြ၏။

၁၀

၁ တဖန် ထာဝရ ဘုရားသည် မောရှေအား မိန့်
၂ တော်မူသည်ကား၊- သင်သည် ပရိသတ်စည်း
ဝေးစေခြင်းငှါ၎င်း၊ တပ်တို့ကို ရွှေ့စေခြင်းငှါ ၎င်း၊
မှုတ်ရသောငွေတံပိုး နှစ်လုံးကို၊ တလုံးလျှင်ငွေ
၃ တတုံးမီခြင်း မဆက်ဘဲ လုပ်ရမည်၊- တံပိုး မှုတ်
သော အခါ၊ ပရိသတ် အပေါင်း တို့သည်၊ ပ
ရိသတ်စည်းဝေးရာ ထဲတော်တံခါးရှေ့၊ သင့်ထံ
၄ ၌ စည်းဝေး ရကြမည်၊- တံပိုး တလုံး တည်းကို
မှုတ်လျှင်၊ ဣသရေလ အမျိုး၌ လူထောင်အုပ်ကို
အုပ်သောမင်းတို့သည် သင့်ထံ၌ စည်းဝေးရကြ
၅ မည်၊- နှိုးဆော်သံနှင့် မှုတ်သော အခါ၊ အရှေ့
၆ တပ်တို့ သည် ရှေ့ သွား ရကြ မည်၊- ဒုတိယ အ
ကြိမ် နှိုး ဆော် သံ နှင့် မှုတ် သော အခါ၊ တောင်
တပ် တို့သည် ရှေ့ သွား ရကြမည်၊ တတိယ အ
ကြိမ် နှိုးဆော်သံနှင့် မှုတ်သောအခါ၊ အနောက်
တပ်တို့သည်ရှေ့သွားရကြမည်၊ စတုတ္ထ အကြိမ်
နှိုးဆော် သံ နှင့်မှုတ်သော အခါ၊ မြောက် တပ်
တို့သည် ရှေ့သွား ရကြမည်၊ အစည် အတိုင်း ရှေ့
သွားစေ ခြင်းငှါ၊ နှိုးဆော်သံနှင့် မှုတ်ရမည်၊-
၇ ပရိသတ်စည်းဝေးစေခြင်းငှါ၊ နှိုးဆော်သံကိုမ
၈ ပြုဘဲ တံပိုးမှုတ်ရမည်၊- အာရုန်၏သား၊ ယဇ်ပု
ရောဟိတ်တို့သည် ထိုတံပိုးကို မှုတ်ရကြမည်၊
သင်တို့ အမျိုး အစည် အဆက် စောင့် ရသော
၉ ပညတ်ဖြစ်သတည်း၊-သင်တို့သည် ကိုယ်ပြည်
၌နေသောအခါ၊ ညှဉ်းဆဲသောရန်သူတို့ကိုစစ်
ပြိုလျှင်၊ နှိုးဆော်သံနှင့်တံပိုးမှုတ်ရမည်၊ ထိုအ
ခါ သင်တို့၏ ဘုရားသခင် ထာဝရ ဘုရားသည်၊
သင်တို့ကို အောက်မေ့၍၊ ရန်သူ လက်မှ ကယ်
၁၀ တင်တော်မူမည်၊- သင်တို့သည် ရွှင်လန်းခြင်း
ကိုပြုသောနေ့၊ ပွဲသဘင်နေ့၊ လဆန်းနေ့တို့၌၊
သင်တို့ ဘုရား သခင် အောင်း မေ့ တော် မူစိမ့်သော
ငှါ၊ မီးရှို့ရာယဇ်၊ မိဿဟာယ ယဇ်ပူဇော်
သက္ကာများ အပေါ်မှာ တံပိုးမှုတ်ရကြမည်၊ ငါ
သည်သင်တို့၏ ဘုရားသခင် ထာဝရဘုရား ဖြစ်
သည်ဟု မိန့်တော်မူ၏၊
၁၁ ဒုတိယ နှစ်၊ ဒုတိယ လ၊ အရက် နှစ်ဆယ်
ပြောက်သောနေ့ရက်၌၊ မိုဃ်းတိမ်သည် သက်
သေခံရာထဲတော်မှ ကွာပြောင်သည် ဖြစ်၍၊-
၁၂ ဣသရေလ အမျိုးသားတို့သည် သိနာတောင်မှ
ခရီးသွားကြ၏၊ နောက်တဖန် မိုဃ်းတိမ်သည်
၁၃ ပါရန်တော၌ တည်နေ၏၊- ထိုသို့ ထာဝရဘုရား
သည် မောရှေအား ဖြင့် မိန့် တော် မူ သည့် အ
၁၄ တိုင်း၊ ပဌမခရီးသွားခြင်းကိုပြုကြ၏၊- ယုဒတပ်
အစည်အတိုင်း၊ အလုံး အရင်း တို့သည်၊ အထံ
နှင့်တကွ ရှေ့ဦးစွာ ရှေ့သွားကြ၏၊ ယုဒတပ်ကို၊ အ
၁၅ မိနဒပ်သား နာရှုန် ချုပ်ရ၏၊- ဣသခါတပ်ကို
၁၆ ဇုအာသား နာသနေလ ချုပ်ရ၏၊- ဇာဗုလုန်တပ်
၁၇ ကို၊ ဟေလုန်သား ဧလျာဘ ချုပ်ရ၏၊- ထဲတော်
ကို ဖြုတ်ချ၍၊ ဂေရရှုန်သား၊ မေရာရိ သားတို့
၁၈ သည် ထဲတော်ကိုထမ်းရွက်၍ သွားကြ၏၊-ရုဗင်

တပ်အစည်အတိုင်း အလုံးအရင်း ဆိုသည်၊ အ
ထံနှင့်တကွ ပြီ သွားကြ၏။ ရုဗင်တပ်ကို၊ ရှေဒုရ
၁၉ သားဧလိဇုရ အုပ်ရ၏၊-ရှိမောင်တပ်ကို၊ ဇုရိရှဒဲ
၂၀ သားရှေလုမျေလ အုပ်ရ၏၊- ဂဒ်တပ်ကို၊ ဒွေလ
၂၁ သားဧလျာသပ် အုပ်ရ၏၊- ကောဟတ်သားတို့
သည်၊ သန့်ရှင်းရာဌာနတန်ဆာတို့ကိုထမ်းလျက်
ပြီ သွားကြ၏၊ သူတို့မရောက်မှီ အရင်သွားသော
၂၂ သူတို့သည်၊ တဲတော်ကိုထူထောင်ရကြ၏၊-ဧဖ
ရိမ်တပ်အစည်အတိုင်း အလုံးအရင်းတို့သည်၊
အထံနှင့်တကွ ပြီ သွားကြ၏၊ ဧဖရိမ်တပ်ကို၊ အမိ
၂၃ ဟုဒ်သားဧလိရှမာ အုပ်ရ၏၊- မနာရှေတပ်ကို၊
၂၄ ပေဒါဇုရသားဂါမလျေလ အုပ်ရ၏၊- ဗင်္ယာမိန်
၂၅ တပ်ကို၊ ဂိဒေါနိသားအဘိဒန် အုပ်ရ၏၊-နောက်
ဆုံးတပ်တည်းဟူသော၊ ဒန်တပ်အစည်အတိုင်း
အလုံးအရင်းတို့သည်၊ အထံနှင့်တကွ ပြီ သွား
ကြ၏၊ ဒန်တပ်ကိုအမိရှဒဲသား၊ အဟေဇာ အုပ်ရ
၂၆ ၏၊- အာရှာ တပ်ကို၊ ဩကရန် သား၊ ပါဂျေလ
၂၇ အုပ်ရ၏၊- နဿလိတပ်ကို၊ ဧနန်သား၊ အဟိရ
၂၈ အုပ်ရ၏၊-ထိုသို့ဣသရေလ အမျိုးသားတို့သည်
ပြီ သွားသောအခါ၊ တပ်များ အစည်အတိုင်းရှိ
၍ခရီးသွားကြ၏။
၂၉ မောရှေကလည်း၊ ထာဝရဘုရား၏ဂတိတော်
အတိုင်း၊ ငါတို့အား ပေးတော်မူမည် အရပ်သို့၊
ငါတို့သည်ထရုခရီးသွားကြ၏၊ ငါတို့နှင့်အတူ
လိုက်၍လာပါ၊ ငါတို့သည်ကျေးဇူးပြုပါမည်၊
ထာဝရဘုရားသည်၊ ဣသရေလ အမျိုးသားတို့
၌ ကျေးဇူး ပြုတော်မူမည် ဂတိရှိပါ၏ဟု၊ မိမိ
ယောက္ခမ မိဒျန်အမျိုး၊ ရွေလသား ဟောဗပ်
၃၀ အားဆိုလျှင်၊- ဟောဗပ်က၊ ငါမလိုက်မသွား
ပါ၊ နေရင်းပြည်၊ ဆွေအမျိုး ရှိရာသို့ပြန်
၃၁ သွား ပါမည်ဟု၊ မောရှေအား ဆို၏၊- မောရှေ
ကလည်း၊ ငါတို့ကိုစွန့်ပြစ်၍မသွားပါနှင့်၊ သင်
သိသည်အတိုင်း၊ ငါတို့သည်တော၌စားခန်းချ
၃၂ ရမည်၊ သင်သည်ငါတို့မျက်စိဖြစ်ရပါ၏၊-ငါတို့
နှင့်အတူလိုက်လျှင်၊ ထာဝရဘုရား ပြုတော်မူ
သောကျေးဇူးတော်ကို၊ ငါတို့သည်ခံရသည်အ
တိုင်း၊ သင်၌ကျေးဇူးပြုပါမည်ဟု ဆိုလေ၏။
၃၃ ဣသရေလ အမျိုးသား တို့သည်၊ ထာဝရ
ဘုရား၏ တောင်တော်မှထွက်၍၊ သုံးရက်ခရီး
သောခရီးကိုသွားကြ၏၊ ထိုသုံးရက် ခရီးသော
ခရီး ကို သွား ကြ စဉ်၊ ထာဝရ ဘုရား ၏ ပဋိ
ညာဉ်သေတ္တာသည်၊ သူတို့အဖို့စားခန်းချရာအ
၃၄ ရပ်ကိုရှာ၍၊ သူတို့ရှေ့က သွားလေ၏၊- ထိုမိုး
တိမ်သည် နေ့အချိန်၌တပ်ရှိ၍ ထွက်သွားသောအခါ၊ ထာ
ဝရဘုရား၏မိုးတိမ်သည် သူတို့ အပေါ်မှာရှိ
၃၅ လေ၏၊-သေတ္တာတော်သွားသောအခါ၊မောရှေ
က၊ အိုထာဝရဘုရား၊ထတော်မူပါ၊ ကိုယ်တော်
၏ရန်သူတို့သည် လွင့်ကြပါစေသော၊ ကိုယ်တော်
ကို မုန်းသော သူတို့သည် ရှေ့တော်မှ ပြေးကြပါ
၃၆ စေသောဟူ၍၎င်း၊- သေတ္တာတော်မသွားဘဲရပ်
နေသောအခါ၊ အိုထာဝရဘုရား၊ ဣသရေလအ
မျိုးသား အထောင်အသောင်းရှိရာသို့ ပြန်လာ
တော်မူပါဟူ၍၎င်းလျှောက်ဆိုလေ့ရှိ၏။

၁၁

၁ တစ်ခန်လူများ တို့သည်၊ အလိုတော်မရှိသော
ပြည်တမ်းမြည်းကိုပြုကြသဖြင့်၊ ထာဝရ ဘုရား
သည် သူတို့စကားကို ကြား၍ အမျက် ထွက်
တော်မူ၏၊ မီးတော်မူသော မီးသည် သူတို့တွင်
လောင်၍၊တပ်အစွန်အနားဌ၌ရှိသောသူအချို့တို့
၂ ကိုသေစေလေ၏၊-လူများတို့သည်မောရှေအား
အော်ဟစ်၍၊မောရှေသည် ထာဝရဘုရားကိုဆု
၃ တောင်းသဖြင့်မီးငြိမ်းလေ၏၊- ထာဝရဘုရား၏
မီးသည် သူတို့တွင်လောင်သောကြောင့်၊ ထိုအ
ရပ်ကို၊ တဗေရဟူသောအမည်ဖြင့်မှည့်လေ၏။
၄ ဣသရေလအမျိုးသားတို့နှင့်ရောနှောလျက်
ပါသော၊ တပါးအမျိုးသားတို့သည် တောင့်တ
သောစိတ်စွဲလမ်းကြ၏၊ ဣသရေလအမျိုးသား
တို့သည်လည်း၊တခန်ငိုကြွေးလျက်၊ ငါတို့စားစ
ရာဘို့ သဲ သားကို အဘယ်သူ ပေးလိမ့် မည်
၅ နည်း။-အဲဂုတ္တုပြည်၌ အလိုအလျောက် စားရ
သောငါးသား၊သခွါးသီး၊ဖရဲသီး၊ကြက်သွန်အ
နီ၊အပြူ၊အရိုင်း၊အမျိုးမျိုးတို့ကို အောင်းမေ့၏၊-
၆ ယခုမှာ ငါတို့အသက်သည် အား လျော့ပြီ၊ ဤ
မန္နမှတပါး၊တစုံတခုကိုမျှမမြင်ရဟု ဆိုကြ၏၊-
၇ မန္နသည်နံနံစေ့နှင့်တူ၍၊ ဗဒေလသစ်စေးကဲ့သို့
၈ အဆင်းဖြစ်၏၊- လူများ တို့သည် ဟည့် ထည့်
လျက်မန္နကိုစုသိမ်း၍၊ဆုံ၌ကြိတ်ခြင်း၊ထောင်း
ခြင်းကို ပြုပြီးမှ၊ အိုးနှင့်ပြုတ်ကြ၏၊ မုန့်ပြားကို
လည်းလုပ်ကြ၏၊အရသာသည်၊မုန့်ဆီကျော်အ
၉ ရသာနှင့်တူ၏၊- စားခန်းချရာအရပ်၌ညဉ့်အ
ခါ၊ နှင်းနှင့်အတူမန္နကျတတ်၏။
၁၀ ထိုအခါလူများတသီးတသီးတို့သည်၊ မိမိတဲ
တံခါး၀၌ မိမိ အိမ်ထောင်နှင့် တကွ ငိုကြွေးကြ
သည်ကို၊မောရှေကြား၏၊ထာဝရဘုရားသည်

ဖြင်းရွှာအရှုကထွက်တော်မူ၏၊ အပြစ်ရှိသည်
၁၁ ကိုမောရှေသိမြင်လျှင်၊– ဤလူအပေါင်းတို့ကို
ထမ်းစေဟု၊သူတို့ကိုကိုယ်တော်ကျွန်အပေါ်မှာ
တင်၍၊ အဘယ်ကြောင့်အကျွန်ုပ်ကို ညှဉ်းဆဲ
တော်မူပါသနည်း။ အဘယ်ကြောင့်ရှေ့တော်၌
၁၂ မျက်နှာမရဘဲနေရပါသနည်း။–သူတို့အိုးအေး
များ၌ကျိန်ဆိုတော်မူသောပြည်သို့သွား၍၊ အ
ထိန်းသည်နို့ရှိသူငယ်ကိုဆောင်သကဲ့သို့၊ဤလူ
တို့ကို ပိုက်ပိုက်လျက် ဆောင် လော့ဟု၊ အကျွန်ုပ်
အားမိန့်တော်မူမည်အကြောင်း၊ ဤလူအပေါင်း
တို့ကို အကျွန်ုပ်သည် ကိုယ် ဝန် ဆောင် ပါသ
၁၃ လော။ ဖွားမြင်ပါသလော။–ဤလူအပေါင်းတို့
အားကျွေးစရာဘို့ အမဲသားကို၊ အကျွန်ုပ်သည်
အဘယ်မှာရနိုင်ပါအံ့နည်း။သူတို့က၊အကျွန်ုပ်
တို့စားစရာဘို့ အမဲသားကိုပေးပါဟု၊ ငိုကြွေး
၁၄ လျက် အကျွန်ုပ်ကို တောင်းကြပါ၏။– ဤလူအ
ပေါင်းတို့ကို၊ အကျွန်ုပ်တယောက်တည်းသာမ
ဆောင် ရွက် နိုင် ပါ၊ ဆောင် ရွက်ရ သော ဝန်
၁၅ ထည်းလေး လွန်းပါ၏။– ထိုသို့အကျွန်ုပ်၌ ပြု
တော်မူလျှင်ငှင်၊ ဗိတ်ထွေတော်မူလျှင်ငှင်၊ အ
ကျွန်ုပ်ကို အလျှင် အမြန် သတ်တော် မူ ပါ၊
ကိုယ်ဆင်းရဲကို၊ ကိုယ်မသိမမြင်ပါစေနှင့်ဟု၊
ထာဝရဘုရားအားလျှောက်ဆို၏။
၁၆ ထာဝရ ဘုရား ကလည်း၊ သင် ကျွမ်း ကျင်
သော ဣသရေလ အမျိုးသား အသက်ကြီးသူခု
နှစ် ကျိပ် တို့ကို၊ ရွေးမှာ စုဝေး စေပြီး လျှင်၊
ပရိသတ် စည်းဝေးရာ တဲတော်သို့ ခေါ် ခဲ့၍၊
၁၇ သင်နှင့် အတူ ရပ်နေ ကြစေ လော့။– ငါသည်
လည်း၊ ထိုအရပ်သို့ဆင်းသက်၍ သင်နှင့်နှုတ်
ဆက်မည်၊ သင့် အပေါ်မှာ ကျိန်း ဝပ်သောဝိ
ညာဉ်အချို့ကိုငါယူ၍သူတို့အပေါ်မှာတင်မည်၊
ဤလူတို့ကို၊ သင်တယောက်တည်းသာဆောင်
ရွက်ရမည်မဟုတ်၊ ထိုအသက်ကြီးသူတို့သည်
၁၈ ဝိုင်းညီ၍ ဆောင်ရွက် ရကြမည်၊– သင်သည်
လည်း၊ လူများတို့အား ဆင့်ဆိုရမည်မှာ၊ နက်
ဖန်နေ့အဘို့ကိုယ်ကိုကိုယ်သန့်ရှင်းစေကြလော့၊
အမဲသားကိုစားရကြမည်။သင်တို့က၊အဘယ်
သူသည် ငါတို့အား၊ အမဲသားကို ပေးလိမ့် မည်
နည်း။ အဲဂုတ္တုပြည်၌နေစဉ်၊ ငါတို့သည်ချမ်း
သာ စွာနေကြပြီဟု၊ ငိုကြွေးလျက်ပြောဆိုသံကို
ထာဝရဘုရားကြားသောကြောင့်၊ အမဲသားကို
ပေးတော်မူသဖြင့်သင်တို့သည်စားရကြမည်။–
၁၉ တရက်၊ နှစ်ရက်၊ ငါးရက်၊ ဆယ်ရက်၊ အရက်
၂၀ နှစ်ဆယ်သာစားရကြမည်မဟုတ်၊–သင်တို့နှာ
ခေါင်းထဲကအမဲသားထွက်၍၊ ရွံစရာဖြစ်သည်
တိုင်အောင်၊ တလပတ်လုံး စားရကြမည်၊ အ
ကြောင်းမူကား၊ သင်တို့တွင်ရှိတော်မူသောထာ
ဝရဘုရားကို၊ သင်တို့သည်မထီမဲ့မြင်ပြုလျက်၊
ငါတို့သည် အဲဂုတ္တုပြည်မှ အဘယ် ကြောင့်
ထွက် လာရကြသနည်းဟု၊ ရှေ့တော်၌ ငိုကြွေး
လျက် ပြောဆို ကြပြီတကားဟု၊ မောရှေ အား
၂၁ မိန့်တော်မူ၏။– မောရှေ ကလည်း၊ အကျွန်ုပ်နှင့်
ဆိုင်သောလူယောက်ျားပေါင်း ခြောက်သိန်းရှိ
ကြသည်ဖြစ်၍၊ကိုယ်တော်က၊တလစားစရာဘို့
သူတို့အား၊အမဲသားကိုငါပေးမည်ဟု မိန့်တော်
၂၂ မူပါသည်တကား။–သူတို့ကိုဝ စွာကျွေးခြင်းငှါ၊
သိုး ဆိတ်နွားစုတို့ကိုသတ်ရပါမည်လော၊ သို့မ
ဟုတ်၊ ဝ စွာကျွေးခြင်းငှါ ပင်လယ် ငါး ရှိသမျှ
တို့ကို စုဝေး ရပါမည် လောဟု လျှောက်လျှင်၊–
၂၃ ထာ ဝရ ဘုရား က၊ ထာဝရ ဘုရား လက် တို သ
လော၊ ငါ့စကားတည်မည်၊ မတည်မည်ကို သင်
သိလိမ့်မည်ဟု၊မောရှေအားမိန့်တော်မူ၏။
၂၄ မောရှေသည်ထွက်၍၊ထာဝရဘုရား၏စကား
တော်ကို လူများတို့အား၊ဆင့်ဆိုပြီးလျှင်၊ အမျိုး
သားအသက်ကြီးသူ ခုနှစ်ကျိပ်တို့ကို စုဝေးစေ
၍၊ ပရိသတ်စည်းဝေးရာတဲတော်ပတ်ထည်၌
၂၅ ထားလေ၏၊–ထာဝရဘုရားသည်မိုဃ်းတိမ်ဖြင့်
ဆင်းသက်၍၊ မောရှေနှင့်နှုတ်ဆက်တော်မူ၏၊
မောရှေအပေါ်မှာကျိန်းဝပ်သောဝိညာဉ်အချို့
ကိုယူ၍၊ အသက်ကြီးသူ ခုနှစ်ကျိပ်တို့အပေါ်
မှာတင်တော်မူသဖြင့်၊ ထိုဝိညာဉ်သည်သူတို့အ
ပေါ်မှာကျိန်းဝပ်သောအခါ၊ သူတို့သည်ပရော
၂၆ ဖက်ပြု၍ မပြတ် မစဲ ဟောကြ၏၊– ထိုလူစု၌ပါ
သော သူ၊ ဧလဒ်နှင့်မေဒဒ်တို့သည် စာရင်း ဝင်
သော်လည်း၊ တဲတော်သို့မသွားဘဲတပ်ထဲမှာနေ
ရစ်စဉ်တွင်၊ သူတို့အပေါ်မှာ ထိုဝိညာဉ်ကျိန်း
ဝပ်သဖြင့်သူတို့သည်ထ်ဦးပရောဖက်ပြု၍၊တပ်
၂၇ ထဲမှာ ဟောကြ၏၊– လုလင် တယောက် သည်
လည်း၊ မောရှေထံသို့ပြေး၍၊ ဧလဒ်နှင့်မေဒဒ်
တို့သည် တပ်ထဲမှာ ပရောဖက်ပြု၍ ဟောပါ၏
၂၈ ဟုလျှောက်လျှင်၊– မောရှေ၏လက်ထောက်ဖြစ်
သောလုလင်နွန်သားယောရှုက၊သခင်မောရှေ၊
သူတိုကိုဆီးတားတော်မူပါဟုဆိုသော်၊– မော
ရှေက၊သင်သည်ငါ့အတွက်ပြုသောမိတ်ရှိသ

သော၊ ထာဝရဘုရား၏ လူအပေါင်းတို့သည် ပ
ရောဖက် ဖြစ်ကြ ပါစေသော၊ ထာဝရ ဘုရား
သည်၊ ဝိညာဉ် တော်ကို သူတို့ အ ပေါ်မှာ သွန်း
၃၀ တော်မူပါစေသောဟု ဆိုပြီးမှ၊- ဣသရေလအ
မျိုးသား၊ အသက်ကြီးသူ တို့နှင့်အတူ၊ တပ်ထဲ
သို့ပြန်သွားလေ၏။
၃၁ ထိုအခါ ထာဝရဘုရားသည်လေကိုစေလွှတ်
၍၊ ငုံးများကို ပင်လယ်မှဆောင်ခဲ့သဖြင့်၊ တပ်
ပတ်လည်၊ တရက်ခရီးမိုင်တိုင်ကွာသောအ
ရပ်တို့၌၊မြေပေါ်မှာ ရှစ်တောင်ခန့်မျှဆင်းစေ
၃၂ တော်မူ၏၊- လူများတို့သည်တနေ့လုံး၊တညည့်
လုံး၊ နက်ဖန်သည်တနေ့လုံးထ၍၊ ငုံးများကိုရု
ဆိမ်းကြ၏၊ နည်းနည်း ဆိမ်းသော သူသည်၊
ဆယ် တောင်းကို ဆိမ်းရ၏၊ တပ်ပတ်လည် အ
၃၃ ရပ်ရပ်၌ဖြန့်ထားကြ၏၊- သိုရာတွင်၊ငုံးသားကို
ကိုက်၍မဝါးမှီ၊ ထာဝရဘုရားသည် သူတို့ကို
အမျက်တော် ထွက်၍၊ အလွန် ပြင်းသော ဘေး
၃၄ နှင့်ဒါဏ်ခတ်တော်မူ၏၊- တောင့်တသောသူတို့
ကိုသင်းဂြိုဟ်ရာထိုအရပ်ကို၊ ကိဗြုတ်ဟတ္တဝါ
၃၅ ဟူသော အမည်ဖြင့် မှည့်လေ၏၊- လူများ တို့
သည်၊ကိဗြုတ်ဟတ္တဝါအရပ်မှထွက်ပြီးလျှင်၊
ဟာဇရုတ်အရပ်သို့ရောက်၍နေကြ၏။

၁၂

၁ မောရှေသည် ကုရှအမျိုးသား မိန်းမနှင့်စုံဖက်
သည်ဖြစ်၍၊ ထိုမိန်းမကြောင့် မိရိအံနှင့်အာရုန်
၂ သည်မောရှေကိုအပြစ်တင်လျက်၊- အကယ်၍
ထာဝရဘုရားသည်၊ မောရှေအားဖြင့်သာ ဗျာ
ဒိတ်ပေးတော်မူသလော၊ ငါတို့အားဖြင့်လည်း
ပေးတော် မမူသလောဟု ဆိုကြ၏၊ ထိုစကားကို
၃ ထာဝရဘုရားကြားတော်မူ၏၊- မောရှေသည်၊
မြေကြီးပေါ်မှာရှိနေသော လူအပေါင်းတို့ထက်
၄ သာ၍နူးညံ့သိမ်မွေ့သောသဘောရှိ၏၊- ထာဝ
ရဘုရားကလည်း၊ သင်တို့ သုံးယောက် သည်
ပရိသတ် စည်းဝေးရာ တဲတော်သို့ထွက်သွား
ကြလော့ဟု၊ မောရှေ၊ အာရုန်၊ မိရိအံတို့အား
ရုတ်ချင်း မိန့်တော်မူ၍၊ သူတို့သည်ထွက်သွား
၅ ကြ၏၊-ထာဝရဘုရားသည်မိုဃ်းတိမ်တိုင်ဖြင့်
ဆင်းသက်၍၊ ပရိသတ်စည်းဝေးရာတဲတော်
တံခါးဝ၌ ရပ်လျက်၊ အာရုန်နှင့် မိရိအံကိုခေါ်
၆ တော်မူ၍၊သူတို့သည်ချဉ်းကပ်ကြ၏၊- ထာဝရ
ဘုရား ကလည်း၊ ငါ စကားကို နားထောင် ကြ
လော့၊သင်တို့တွင်ပရောဖက်ရှိလျှင်၊ ငါထာဝရ
ဘုရားသည် ထိုသူ၌ ရူပါရုံအားဖြင့် ကိုယ်ကို
ပြကိုယ်ကိုပြမည်၊ အိပ်မက်၌ အိပ်မက်အား
၇ ဖြင့် ဗျာဒိတ်ပေးမည်၊- အိမ်တော်တအိမ်လုံး၌
သစ္စာစောင့်သော၊ ငါ့ကျွန်မောရှေသည် ထိုသို့မ
၈ ဟုတ်၊- သူ၌ဗျာဒိတ်ပေးသောအခါ၊နက်နဲသော
စကား၊ အားဖြင့် မပေး၊ ကိုယ် ထိုင် ကိုယ် ပြော်
ထင်ရှားစွာ ဗျာဒိတ်ပေးမည်၊ သူသည်ထာဝရ
ဘုရား၏ပုံသဏ္ဍာန်ကိုလည်းမြင်ရမည်၊ သို့ဖြစ်
၍သင်တို့သည်ငါ့ကျွန်မောရှေကိုအဘယ်ကြောင့်
၉ အပြစ် တင်ဝံ့သနည်းဟုမိန့်တော်မူလျက်၊- အ
မျက်တော် ထွက်၍၊ ထာဝရ ဘုရား ကြွ သွား
၁၀ တော် မူသဖြင့်၊- မိုဃ်းတိမ်သည် တဲတော်အ
ပေါ်မှကွာသွား၏၊မိရိအံသည်လည်း၊ နှင်းကဲ့သို့
မိုဃ်းပွင့်ကဲ့သို့ဖြူလေ၏၊ အာရုန်ကြည့်၍၊ မိရိ
၁၁ အံနူသည်ကိုမြင်လျှင်၊- ဆိုအကျွန်ုပ် သခင်၊အ
ကျွန်ုပ်တို့သည်မိုက်သောအမှုကိုပြုမိ၍၊ပြစ်မှား
သောအပြစ်ကိုအကျွန်ုပ်တို့အပေါ်မှာတင်တော်
၁၂ မမူပါနှင့်၊ အကျွန်ုပ် တောင်းပန်ပါ၏၊- အမိဝမ်း
ကပင် ကိုယ်အသား တဝက်ပုပ်သော အသေ
ကောင်ကဲ့သို့၊သူသည်မဖြစ်ပါစေနှင့်ဟုတောင်း
၁၃ ပန်လျှင်၊- မောရှေက၊ အိုဘုရားသခင်၊သူ၏အ
နာကို ပျောက်စေတော်မူပါ၊ အကျွန်ုပ်တောင်း
ပန်ပါ၏ဟု၊ ထာဝရဘုရားအား အော်ဟစ်လေ
၁၄ ၏၊-ထာဝရဘုရားကလည်း၊ သူ၏အဘသည်သူ
၏မျက်နှာကို တံတွေးနှင့်ထွေးရုံမျှသာပြုလျှင်၊
သူသည် ခုနှစ်ရက်ပတ်လုံး၊အရှက်ကွဲခြင်းကိုခံ
ရမည်မဟုတ်လော၊ ယခုတွင်သူကိုနှင်ထုတ်၍၊
ခုနှစ်ရက်ပတ်လုံးတပ်ပြင်မှာနေစေ၊ ထိုနောက်မှ
တပ်ထဲသို့ တဖန် ဝင်စေဟု၊ မောရှေအား မိန့်
၁၅ တော်မူသည်အတိုင်း၊- မိရိအံကို နှင်ထုတ်၍၊
သူသည် ခုနှစ်ရက်ပတ်လုံး တပ်ပြင်မှာနေရ၏၊
မိရိအံအနာ မပျောက်မှီ တိုင်အောင် လူများတို့
၁၆ သည် ခရီးမသွားဘဲနေကြ၏၊- ထိုနောက်၊ ဟာ
ဇရုတ် အရပ်မှ ပြောင်း၍၊ ပါရန် တော၌ ထဲ
ဆောက်ကြ၏။

၁၃

၁ တဖန် ထာဝရဘုရားသည် မောရှေအား မိန့်
၂ တော်မူသည်ကား၊- ဣသရေလအမျိုးသားတို့
အားငါပေးသောခါနာန်ပြည်ကိုစူးစမ်းစေခြင်း
ငှါ၊ အမျိုး၊ အနွယ် အသီးအသီးထဲက အဆွေအ
မျိုးသူကြီး၊ဖြစ်သောသူ၊တမျိုးတယောက်စီစေ
၃ လွှတ်၍စေလွှတ်လော့ဟု၊-ထာဝရဘုရားမိန့်မှာ

ထားတော်မူသည်အတိုင်း၊ မောရှေသည်လူတို့
ကိုပါရန်တောကစေလွှတ်လေ၏၊ စေလွှတ်သော
သူအပေါင်းတို့သည် ဣသရေလအမျိုး၌ အကဲ
၄ အမှူးဖြစ်ကြ၏– သူတို့အမည်ကား၊ ရုဗင်အမျိုး၊
၅ ဇက္ကုရသား ရှမွာ၊– ရှိမောင်အမျိုး၊ ဟောရိ
၆ သားရှာဖတ်၊– ယုဒအမျိုး၊ ယေဖုန္နသား ကာ
၇ လက်၊– ဣသခါအမျိုး၊ ယောသပ် သား ဣဂါ
၈ လ၊– ဧဖရိမ်အမျိုး၊ နုန်သားဟောရှေ၊– ဗင်္ယာမိန်
၉ အမျိုး၊ ရာဖုသား ပါလတိ၊– ဇာဗုလုန် အမျိုး၊
၁၀ သောဒိသား ဂါဒျေလ၊– ယောသပ်သားတွင် မ
၁၁ နာရှေအမျိုး၊ သုသိသား ဂဒ္ဒိ၊– ဒန်အမျိုး၊ ဂေမလ္လိ
၁၂ သား အမျေလ၊– အာရှာအမျိုး၊ မိက္ခေလသား
၁၃ သေသုရ၊– နဿလိအမျိုး၊ ဝါဖသိသား နာဘိ၊–
၁၄ ဂဒ်အမျိုး၊ မာခိသား ဂွေလ တည်း ဟူသော၊–
၁၅ ခါနာန်ပြည်ကို စူးစမ်း စေခြင်းငှါ မောရှေ စေ
၁၆ လွှတ်သော သူတို့၏ အမည်တည်း။ နုန်၏သား
ဟောရှေကို၊ယောရှုတည်းဟူသော အမည်ဖြင့်မောရှေ
မှည့်လေ၏။

၁၇ ခါနာန်ပြည်ကို စူးစမ်းစေခြင်းငှါ မောရှေစေ
လွှတ်လျှင်၊ သင်တို့သည်တောင်မျက်နှာထမ်း
ဖြင့်သွား၍၊ တောင်မြို့ပေါ်သို့တက်ကြလော့၊–
၁၈ ထိုပြည်သည်အဘယ်သို့သောပြည်ဖြစ်သနည်း၊
ပြည်သားတို့သည်အားကြီးသလော၊အားနည်း
၁၉ သလော၊ များသလော၊ နည်းသလော၊– သူတို့
နေသောပြည်သည်ကောင်းသလော၊မကောင်း
သလော၊ သူတို့နေသောမြို့ရွာတို့သည်အဘယ်သို့
နည်း၊တဲနှင့်နေကြသလော၊ခိုင်ခံ့သောမြို့နှင့်နေ
၂၀ ကြသလော၊– ထိုမြေသည်ကောင်းသလော၊မ
ကောင်း သလော၊ တော ရှိ သ လော၊ နည်း သ
လောဟု ကြည့်ရှု ကြလော့၊ ရဲရင့်သောစိတ် ရှိ
ကြလော့၊ သစ်သီးအချို့ကိုလည်းယူခဲ့ကြလော့
ဟု မှာထိုက်လေ၏၊ ထိုကာလ သည် စပျစ် သီး
မှည့်စကာလဖြစ်သတည်း။

၂၁ ထိုသူတို့သည်ဇိနတောမှသွား၍၊ ဟာမတ်မြို့
သို့ရောက် သော လမ်းနား၊ ရဟောဘ မြို့ ထိုင်
၂၂ တောင်ခါနာန် ပြည်ကို စူးစမ်းကြ၏၊– တောင်
မျက်နှာ၌ရှောက်သွား၍ အာနကအမျိုးသား၊
အဟိမန်၊ ရှေရှဲ၊ တာလမဲနေသော ဟေဗြုန်မြို့
သို့ရောက်ကြ၏၊ ဟေဗြုန်မြို့ကား၊အဲဂုတ္တုပြည်
၌ ဇောနမြို့ကိုတည်မှ၊ ခုနစ်နှစ်ကတည်သောမြို့
၂၃ ဖြစ်သတည်း၊– ဧရှကောလချိုင့်သို့ရောက်လျှင်၊
အသီးတပြွတ်ပါသော စပျစ်နွယ်ပင် အခက်တ
ခက်ကိုခုတ်၍၊ လူနှစ်ယောက် ထမ်းသည့် ထမ်း
ပိုးနှင့် ထမ်းကြ၏၊ သလဲသီး၊ သင်္ဘောသဖန်း
၂၄ သီးမျှားကိုလည်း ဆောင်ခဲ့ကြ၏– ဣသရေလ
အမျိုး သား ခုတ် ယူ သော စ ပျစ်သီး ပြွတ် ကို
ထောက်၍၊ ထိုချိုင့်ကိုဧရှကောလချိုင့်ဟူသော
၂၅ အမည်ဖြင့် မှည့်သတည်း၊– ရက်ပေါင်းလေး
ဆယ်လွန်မှ၊ ခါနာန်ပြည်ကို စူးစမ်းသော အမှုပြီး၍
ပြန်လာကြ၏။

၂၆ မောရှေနှင့် အာရုန်မှစ၍၊ ဣသရေလအမျိုး
သားပရိသတ် အပေါင်းတို့နေရာပါရန်တော
ကာဒေရှအရပ်သို့ရောက်သောအခါ၊ပရိသတ်
အပေါင်း တို့အား သိတင်း ကြား ပြော၍၊ ထို
၂၇ ပြည်၌ သီးသော အသီး ကို ပြ ကြ၏၊– မောရှေ
အား ထ ည်း၊ အကျွန်ုပ် တို့ သည် ကိုယ် တော်
စေလွှတ်သောပြည်သို့ ရောက်ခဲ့ပါပြီ၊ အကယ်
စင်စစ်ထိုပြည်သည်နို့နှင့် ပျားရည်စီးသောပြည်
ဖြစ်ပါ၏၊ဤအသီးတို့ကား၊ ထိုပြည်၌သီးသော
၂၈ အသီးဖြစ်ပါ၏၊– သို့ရာတွင်၊ပြည်သူပြည်သား
တို့သည် အားကြီးပါ၏၊ ခိုင်ခံ့သော မြို့ကြီးနှင့်
နေကြပါ၏၊ထိုမှတပါး၊အာနကအမျိုးသားတို့ကို
၂၉ လည်းမြင်ရပါ၏၊– အာမလက် အမျိုးသားတို့
သည်တောင်ထက်၌နေ၊ ဟိတ္တိလူ၊ယေဗုသိလူ၊
အာမောရိလူတို့သည် တောင်မြို့ပေါ်၌နေ၊ ခါ
နာနိလူတို့သည်ပင်လယ်နား၊ ယော်ဒန်မြစ်နား
၃၀ ၌နေကြပါသည်ဟု လျှောက်ဆိုကြ၏၊– ကာ
လက်ကလည်း၊ ချက်ချင်း ရှိသွား၍၊ထိုပြည်ကို
သိမ်းယူကြစို့၊ အောင်နိုင် ကောင်းသည်ဟု ဆို
၃၁ ၍၊ မောရှေရှေ့မှာလူများတို့ကိုငြိမ်းစေ၏၊– ထို
နှင့်အတူလိုက်သွားသောသူတို့က၊ထိုပြည်သား
တို့ကိုငါတို့မတိုက်နိုင်၊ သူတို့သည်၊ငါတို့ထက်
၃၂ သာ၍အားကြီးကြသည်ဟူ၍ဆို၏– ငါတို့သွား
၍ စူးစမ်းသောပြည်သည် မိမိသားတို့ကို ကိုက်
ဆိတ်တတ်၏၊ ငါတို့တွေ့မြင်သော ပြည်သား အ
၃၃ ပေါင်းတို့သည် အလွန်အရပ်မြင့်ကြ၏– ကိုယ်
ကြီးသော လူအမျိုး၊အနွယ်၊ အာနကအမျိုးအ
နွယ် ဖြစ်၍၊ အလွန် ကြီး မားသော သူ တို့ကို
လည်း မြင်ခဲ့ ကြပြီ၊ သူတို့ရှေ့မှာ ငါတို့ သည်၊
ကိုယ်အထင်အတိုင်း၊ နှံကောင်ကဲ့သို့ဖြစ်ကြ၏၊
သူတို့အထင်အတိုင်းလည်း၊ ထိုသို့ဖြစ်ကြသည်
ဟူ၍ဆို၍၊ မိမိတို့စူးစမ်းသောပြည်ကို၊ ဣသရေ
လအမျိုးသားတို့အား မကောင်းသော သိတင်း
ကိုကြားပြောကြလေ၏။

၁၄

၁ ထိုအခါ ပရိသတ် အပေါင်း တို့သည် အသံ
ကိုလွှင့်၍မြည်တမ်းသဖြင့်၊တညဥ့်လုံးငိုကြွေး
၂ ကြ၏။- ဣသ ရေလ အမျိုး သား ပရိ သတ် အ
ပေါင်းတို့သည်၊ မောရှေနှင့် အာရုန်ကို အပြစ်
တင်သော စကားနှင့် မြည် တမ်း လျက်၊ ငါတို့
သည်အဲဂုတ္တုပြည်၌မသေပါလေ။ ဤတော၌မ
၃ သေပါလေ။- ငါတို့သည်ထားဖြင့်သေ၍၊သား
မယားတို့သည် ရန်သူလက်သို့ ရောက်စေခြင်း
ငှါ၊ ထာဝရဘုရားသည် အဘယ်ကြောင့် ငါတို့
ကိုဤအရပ်သို့ဆောင်ခဲ့တော်မူသနည်း။အဲဂုတ္တု
ပြည်သို့ပြန်ကောင်းသည်မဟုတ်လောဟု၊မော
၄ ရှေနှင့် အာရုန်အားဆိုပြီးမှ၊- တဖန်လူတစုံတ
ယောက်ကိုချီးမြှောက်၍၊ အဲဂုတ္တုပြည်သို့ပြန်
ကြစို့ဟု၊ တယောက်ကိုတယောက် ဆိုကြ၏။-
၅ မောရှေနှင့် အာရုန်တို့သည်၊ ဣသရေလအမျိုး
သား ပရိသတ် အပေါင်း တို့ရှေ့ မှာ ပြပ် ဝပ်
၆ လျက်နေကြ၏။-ခါနာန်ပြည်ကိုစူးစမ်းသောလူ
စုထဲက နုန်၏သား ယောရှု၊ ယေဖုန္နာ၏ သား
ကာလက်တို့သည် မိမိတို့အဝတ်ကို ဆုတ်၍၊-
၇ ဣသရေလ အမျိုးသား အပေါင်းတို့အား ခေါ်
လျက်၊ ငါတို့ရှောက်သွား၍ စူးစမ်းသောပြည်
သည်အလွန်တရာကောင်းသော ပြည်ဖြစ်ပါ၏။-
၈ ထာဝရဘုရားသည် ငါတို့ကို နှစ်သက်လျှင်၊ နို့
နှင့်ပျားရည်စီးသောထိုပြည်သို့ငါတို့ကိုဆောင်
၉ သွင်း၍၊ အပိုင်ပေးတော် မူလိမ့်မည်။- ထာဝရ
ဘုရားကို မပုန်ကန်ကြပါနှင့်။ ထိုပြည်သူ ပြည်
သားတို့ကိုမကြောက်ကြနှင့်။ သူတို့သည်ငါတို့
စားစရာဘို့ဖြစ်ကြ၏။သူတို့၌အမှီတကဲမရှိ။ထာ
ဝရဘုရားသည် ငါတို့ဘက်၌ ရှိတော်မူ၏။ သို့
ဖြစ်၍၊သူတို့ကိုမကြောက်ကြနှင့်ဟုပြောဆိုကြ
၁၀ လေသော်၊-ပရိသတ်အပေါင်းတို့သည်၊ ထိုသူ
နှစ်ယောက်ကို ကျောက်ခဲနှင့် ပြစ်စေခြင်းငှါစီ
ရင်ကြ၏။ ထိုအခါ ထာဝရဘုရား၏ ဘုန်းတော်
သည်၊ ဣသရေလ အမျိုးသား အပေါင်းတို့ရှေ့
မှာ ပရိသတ် စည်းဝေးရာ တဲတော်၌ ထင်ရှား
လေ၏။

၁၁ ထာဝရ ဘုရားက လည်း၊ ဤလူမျိုး သည်အ
ဘယ် မျှ ကာလ ပတ်လုံး ငါ့ကို မရို မသေ ပြုကြ
လိမ့်မည်နည်း။ သူတို့၌ ငါပြခဲ့ပြီးသမျှ သောနိ
မိတ် လက္ခဏာ တို့ကို မြင်ရ သော် လည်း၊ အ
ဘယ်မျှကာလပတ်လုံး ငါ့ကိုမယုံဘဲနေကြ လိမ့်
၁၂ မည်နည်း။- သူတို့ကိုကာလနာဘေးဖြင့်ငါသဉ်
ဖြတ်ခတ်၍၊ သား၏အရာကိုနှုတ်မည်။ သူတို့
ထက်သင့်ကိုသာ၍စည်ပင်သောအမျိုး၊ သာ၍
တန်ခိုးကြီးသောအမျိုးဖြစ်စေမည်ဟု၊ မောရှေ
၁၃ အားမိန့်တော်မူ၏။- မောရှေကလည်း၊ ကိုယ်
တော်သည် ဤလူမျိုးကို၊တန်ခိုးတော် အားဖြင့်
အဲဂုတ္တုလူတို့ထဲက နှုတ်ဆောင်ခဲ့တော်မူသည်
ဖြစ်၍၊ နောက်တဖန် ဤသိတင်းကို အဲဂုတ္တုလူ
၁၄ တို့သည် ကြားပြန်လျှင်၊- ဤပြည်၌နေသောသူ
တို့ အား သိတင်း ပြော ကြ လိမ့်မည်။ ထာဝရ
ဘုရား၊ ကိုယ် တော် သည် ဤလူမျိုး၌ ရှိတော်
မူကြောင်းကို၎င်း၊ ထာဝရဘုရား၊ ကိုယ်တော်
သည် ထင်ရှားတော် မူ ကြောင်းကို၎င်း၊ မိုဃ်း
တိမ်တော်သည် သူတို့ကို လွှမ်းမိုး ကြောင်းကို
၎င်း၊ ကိုယ်တော်သည် နေ့အချိန်၌ မိုဃ်း တိမ်
တိုင်၊ညဥ့်အချိန်၌မီးတိုင်ဖြင့် သူတို့ရှေ့ကကြွ
၁၅ တော် မူ ကြောင်းကို ၎င်း ကြားရ ကြပြီ။- ယခု
မှာ၊ ဤလူမျိုးကို လူ တ ယောက် ကဲ့သို့ မှတ်၍၊
သုတ်သင်ပယ်ရှင်းတော်မူလျှင်၊ သိတင်းတော်
၁၆ ကိုကြားဘူးသောလူအမျိုးမျိုးတို့က၊- ထာဝရ
ဘုရားသည် ထိုလူတို့အား ဤမည်သော ပြည်
ကိုငါပေးမည်ဟု ကျိန်ဆိုသော်လည်း၊ထိုပြည်
သို့ သူတို့ ကို ဆောင် သွင်း ခြင်းငှါ မတတ် နိုင်
သောကြောင့်၊ တော၌သုတ်သင်ပယ်ရှင်းပြီဟု
၁၇ ပြောဆိုကြပါလိမ့်မည်။- ကိုယ်တော်က၊ထာဝ
၁၈ ရဘုရား သည် သည်းခံသော သဘော၊ သနား
သော သဘောနှင့် ပြည့်စုံတော်မူသော၊ အ
ဓမ္မကျင့်ခြင်း၊ တရားတော်ကိုလွန်ကျူးခြင်းအ
ပြစ်တို့ကို ဖြေလွှတ် သော်လည်း၊ အချည်း နှီး
သက်သက် ဖြေလွှတ်တော် မမူသော၊ လူအ
စည်အဆက်၊တတိယအဆက်၊စတုတ္ထအဆက်
တိုင်အောင်၊ အဘတို့၏အပြစ်ကို သားတို့၌ဆပ်
ပေး စီ ရင် တော်မူသော ဘုရား သခင် ဖြစ်၏ ဟု
မိန့်တော်မူသည်အတိုင်း၊ အရှင်ဘုရားကျွန်ုပ်တို့၏ဘုရား
၁၉ ရှင် တန်ခိုး တော် သည် ကြီးပါစေသော။- အဲ
ဂုတ္တုပြည်က ထွက် သောနေ့ မှစ၍ ယခုတိုင်
အောင်၊ဤလူမျိုး၏အပြစ်ကိုလွှတ်တော်မူသည်
နည်းတူ၊ ကရုဏာတော်များပြားသည်နှင့်အညီ၊
ယခုလည်းလွှတ်တော်မူပါ၊ အကျွန်ုပ်တောင်း
ပန် ပါ၏ဟု၊ ထာဝရ ဘုရားအား လျှောက် ဆို
၂၀ လျှင်၊- ထာဝရဘုရားက၊သင်တောင်းပန်သည်
၂၁ အတိုင်း ငါလွှတ်၏။- ငါအသက် ရှင်သည်ဖြစ်

၍၊ ထာဝရဘုရား၏ဘုန်းတော်သည်မြေတပြင်
၂၂ လုံး၌ပြည့်စုံခြင်းရှိလိမ့်မည်။– ဘုန်းတော်ကိုငှင်၊အဲ
ဂုတ္တုပြည်မှာ၎င်း၊ တောတွင်၎င်း ငါပြုပြီးသော နိ
မိတ်လက္ခဏာတို့ကို မြင်ကြပြီးလျှင်၊ ယခုတိုင်အောင်
ဆယ်ကြိမ်တိုင်တိုင် ငါ့စကားကို နားမထောင်၊
ငါ့ကို စုံစမ်းသောသူတို့သည်၊ ထိုသူတို့
၂၃ ငါ့ကို စုံစမ်းသောကြောင့်၊– သူတို့ ဘိုးဘေး တို့
အား ငါကျိန်ဆိုသောပြည်ကို အကယ်စင်စစ်သူ
တို့သည် မမြင်ရကြ။ ငါ့ကိုမရိုမသေ ပြုသောသူ
၂၄ တစုံတယောက်မျှမမြင်ရ။– ငါ့ကျွန်ကာလက်မူ
ကား၊ ထူးခြားသော သဘောရှိ၍၊ ငါ့နောက်သို့
လုံးလုံးလိုက်သောကြောင့်၊ သူသွားခဲ့ ပြီးသော
ပြည်သို့သူ့ကိုငါဆောင်သွင်းသဖြင့်၊ သူ၏သား
၂၅ မြေး တို့သည် အမွေခံ ရကြ လိမ့်မည်။– အာမ
လက် အမျိုးသားနှင့် ခါနာန် အမျိုးသား တို့
သည် ချိုင့်မှာနေကြသည်ဖြစ်၍၊ သင်တို့သည်
နက်ဖန်နေ့၌ ဗျည့်လည်၍၊ ဧဒုံပင်လယ် လမ်း
ဖြင့်တောသို့သွားကြလော့ဟုမိန့်တော်မူ၏။
၂၆ ထိုနောက် ထာဝရ ဘုရား သည် မောရှေနှင့် အာ
၂၇ ရုန်အား မိန့်တော် မူသည်ကား၊– ငါ့ကို အပြစ်
တင်၍ မြည်တမ်းသော၊ ဤပရိသတ်ဆိုးတို့ကို
အဘယ်မျှ ကာလပတ်လုံး ငါသည် သည်းခံရ
အံ့နည်း။ ဣသရေလအမျိုးသားတို့သည်၊ ငါ့ကို
အပြစ်တင်၍ မြည်တမ်းသော စကားတို့ကို ငါ
၂၈ ကြားရပြီ။–သင်သည်သူတို့အားဆင့်ဆိုရမည်
မှာ၊ထာဝရဘုရားက၊ ငါအသက် ရှင်သည်ဖြစ်
၍၊ သင်တို့သည်ငါ့ကို ကြားစေခြင်းငှါပြောကြ
သော စကား အတိုင်း သင်တို့ကို ငါပြု မည်။–
၂၉ သင်တို့ကိုရေတွက်၍ စာရင်းယူသည်အတိုင်း၊
အသက် နှစ်ဆယ် လွန် သော သူ၊ ငါ့ ကို အပြစ်
တင်၍ မြည် တမ်းသောသူ အပေါင်းတို့ သည်
သေ၍၊ဤတော၌အသေကောင်ဖြစ်လျက်နေရစ်
၃၀ ကြလိမ့်မည်။– ငါသည်ဤမည်သောပြည်၌သင်
တို့ကိုနေရာချမည်ဟု၊ငါကျိန်ဆို၏။ ထိုပြည်သို့
ယေဖုန္နာ၏သားကာလက်၊ နုန်၏သားယောရှု
၃၁ မှတပါး၊အဘယ်သူမျှမရောက်ရ။–ရန်သူလုယူ
ရာဖြစ်လိမ့်မည်ဟု၊ သင်တို့ဆိုသောသူငယ်တို့
ကိုငါဆောင်သွင်း၍၊သင်တို့ပယ်သောပြည်ကို
၃၂ သူတို့သည်သိရကြလိမ့်မည်။– သင်တို့မူကား၊
ဤတော၌သေ၍၊အသေကောင်ဖြစ်လျက်နေရစ်
၃၃ ရကြလိမ့်မည်။–ဤတော၌သင်တို့အသေကောင်
များပျောက်ပျက်သည်တိုင်အောင်၊ ကိုယ်သား
သမီးတို့သည် မိဿ မှားပျင်း ခြင်း အပြစ်များကို
ဆောင်၍၊ ဤတော၌ အနှစ်လေးဆယ် ပတ်လုံး
၃၄ ဗျည့်လည်ရကြလိမ့်မည်။– ထိုပြည်ကိုစူးစမ်း
ရာနေ့ရက်ပေါင်း၊ အရက်လေးဆယ်နှင့်အညီ၊
တရက်ကိုတနှစ်ထား၍၊ အနှစ်လေးဆယ်ပတ်
လုံးကိုယ်အပြစ်ကိုဆောင်လျက်၊ငါစွန့်ပြစ်ခြင်း
၃၅ ကိုသိရကြလိမ့်မည်။– အကယ်စင်စစ်ငါဖက်
၌စည်းဝေးသော၊ဤပရိသတ်ဆိုးအပေါင်းတို့
ကိုထိုသို့ငါပြု၍၊ သူတို့သည်ဤတော၌သေကြ
ပျောက်ပျက်ကြလိမ့်မည်ဟု၊ ငါထာဝရ ဘုရား
မိန့်တော်မူ၏။
၃၆ မောရှေစေလွှတ်သောအစ္စ ၂နှင့်ခါနာန်ပြည်
ကိုစူးစမ်း၍ပြန်လာသောအခါ၊ ထိုပြည်ကိုကဲ့
ရဲ့သဖြင့်ပရိသတ်အပေါင်းမြည်တမ်းစေခြင်း
၃၇ ငှါ တိုက်တွန်း သော သူ၊– ခါနာန် ပြည် ကိုမ
ကောင်း သော သိတင်း ကြား ပြောသော သူတို့
သည်၊ ထာဝရဘုရားရှေ့တော်၌ကာလနာအား
၃၈ ဖြင့်သေကြလေ၏။– ထိုပြည်ကိုစူးစမ်း၍ သွား
သောလူတို့တွင်၊နုန်၏သားယောရှုနှင့်ယေဖုန္နာ
၏သားကာလက်တို့သာ အသက်ချမ်းသာရကြ
၃၉ ၏။– မောရှေသည် ဣသရေလ အမျိုးသားအ
ပေါင်းတို့အားစကားတော်များကိုဆင့်ဆိုသော
အခါ၊လူများတို့သည် အလွန်ညည်းတွားလျက်
နေကြ၏။
၄၀ နံနက်စောစောထ၍တောင်ထိပ်ပေါ်သို့တက်
ပြီးလျှင်၊ငါတို့သည်ပြစ်မှားပြီ။ သို့သော်လည်း၊
ထာဝရ ဘုရား ဂတိထား
တော်မူ သော ပြည် သို့ သွားပါ မည် ဟု ဆိုကြ
၄၁ သော်၊–မောရှေက၊ထာဝရဘုရား၏အမိန့်တော်
ကိုအဘယ်ကြောင့် လွန်ကျူးကြသနည်း။သင်
၄၂ တို့အကြံမထမြောက်ရ။–မသွားကြနှင့်။ ထာဝ
ရဘုရားသည်သင်တို့ဘက်၌ ရှိတော်မမူ။ သွား
၄၃ လျှင်၊ရန် သူရှေ့မှာ ရှုံးရကြလိမ့်မည်။– အာမ
လက်အမျိုးသားနှင့်ခါနာန်အမျိုးသားတို့သည်၊
သင်တို့မရောက်မီရောက် နှင့်သည် ဖြစ်၍၊ သင်
တို့သည် ထား ဖြင့် ဆုံး ကြ လိမ့်မည်။ ထာဝရ
ဘုရားထံတော်မှ ဖဲသွားသောကြောင့်၊ ထာဝ
ရဘုရားသည်သင်တို့ဘက်၌ နေတော်မမူဟုဆို
၄၄ သော်လည်း၊– သူတို့သည် မိုင်ခံ့သောစိတ်နှင့်
တောင်ထိပ် ထက်သို့ တဖန်တက်ကြ၏။ သို့ရာ
တွင်၊ ထာဝရဘုရား၏ ပဋိညာဉ်သေတ္တာတော်
နှင့်တကွ၊ မောရှေ သည် တပ်ပြင်သို့ မထွက်မ
၄၅ သွားဘဲနေလေ၏။–ထိုအခါ၊တောင်ပေါ်မှာရှိနှင့်

သော အာမလက် အမျိုးသားနှင့် ခါနာန်အမျိုး
သားတို့သည် ဆင်း၍လာလျက်၊ ဣသရေလအမျိုး
သားတို့ကို တိုက်၍ ဆောင်သဖြင့်၊ ဟောရမာမြို့
တိုင်အောင် လိုက်ကြလေ၏။

၁၅

၁ တဖန် မောရှေအား ထာဝရ ဘုရားက၊ သင်
သည်ဣသရေလအမျိုးသားတို့ကိုဆင့်ဆိုရမည်
၂ မှာ၊-သင်တို့ နေရာဖြစ်သော၊ ငါပေးသောပြည်
၃ သို့ရောက်၍နေကြသောအခါ၊- သစ္စာဂတိမှု၍
ပူဇော်သော်၎င်း၊ အလိုလိုပူဇော်သော်၎င်း၊ ပွဲသ
ဘင်ခံ၍ ပူဇော်သော်၎င်း၊ မီးရှို့ရာယဇ် အစ ရှိ
သော၊ အခြားသော ယဇ်ကို မီးဖြင့် ပူဇော်၍၊
ထိုနွားအားဖြင့် ထာဝရဘုရားအဖို့ မွှေးကြိုင်
၄ သော အနံ့ကိုပြုခြင်းငှါ အလိုရှိလျှင်၊- ထာဝရ
၅ ဘုရားအား ပူဇော်သကာကို ပြုသောသူသည်၊
ထိုယဇ်ကိုပူဇော်လျှင်၊မီးရှို့ရာယဇ်ဖြစ်စေ၊
အခြားသော ယဇ်ဖြစ်စေ၊ သိုးနှင့်တကွ သော
ဇဉ်ပူဇော်သကာကို ဆီသုံးလေသာအရောသော
မုန့်ညက်တခြမ်းခဲကို၎င်း၊ သွန်းလောင်းရာပူဇော်
သကာတို့၊ စပျစ်ရည်သုံးလေသာအကို၎င်းပြင်ဆင်
၆ ၍ဆောင်ခဲ့ရမည်။- သိုးကိုပူဇော်လျှင်၊ ထာဝရ
၇ ဘုရားအဖို့ မွှေးကြိုင်သော အနံ့ ရှိစေ ခြင်းငှါ၊
ဘောဇဉ် ပူဇော်သကာအို၊ ဆီ လေးလေသာအ
ရောသော မုန့်ညက်နှစ်ခြမ်းခဲကိုပြင်ဆင်၍၊ သွန်း
လောင်းရာ ပူဇော်သကာ အို၊ စပျစ်ရည် လေး
၈ လေသာအကိုပူဇော်ရမည်။- ထာဝရဘုရားအား
မီးရှို့ရာယဇ်၊ သစ္စာဂတိမှု၍ပူဇော်သောယဇ်၊
၉ မိဿဟာယ ယဇ်အို့ နွားကိုပြင်ဆင်လျှင်၊-မီး
၁၀ ဖြင့်ပူဇော်၍ထာဝရဘုရားအဖို့မွှေးကြိုင်သော
အနံ့ ရှိစေခြင်းငှါ၊ နွားနှင့် တကွ၊ ဘောဇဉ်ပူ
ဇော် သကာအို၊ ဆီခြောက်လေသာအ ရောသော
မုန့်ညက် သုံးခြမ်းခဲ ကို ၎င်း၊ သွန်းလောင်းရာ ပူ
ဇော်သကာအို၊စပျစ်ရည်ခြောက်လေသာအကို၎င်း
၁၁ ဆောင်ခဲ့ရမည်။-နွားတကောင်၊ သိုးတကောင်၊
သိုးသငယ် တကောင်၊ ဆိတ်သငယ် တကောင်
၁၂ ထိုယဇ်ပူဇော်သောအခါ၊ ထိုသို့ပြုရမည်။-ပြင်
ဆင်သောသိုးနွားအရေအတွက်သို့လိုက်၍၊အ
၁၃ ကောင်တကောင်ကိုထိုသို့ပြုရမည်။-ပြည်သား
အပေါင်းတို့သည်၊မီးဖြင့်ပူဇော်၍ထာဝရဘုရား
အဖို့မွှေးကြိုင်သောအနံ့ရှိစေခြင်းငှါ၊ ထိုသို့နှင့်
၁၄ အညီပြုရကြမည်။- သင်တို့တွင် တည်းခိုသော
အပါး[illegible]သားဖြစ်စေ၊အခြားအပါးသောသူ
ဖြစ်စေ၊မီးဖြင့်ပူဇော်၍ ထာဝရဘုရားအဖို့ မွှေး
ကြိုင်သော အနံ့ရှိစေခြင်းငှါ အလိုရှိလျှင်၊ သင်
တို့ပြုသည်နည်းတူ၊ သူသည်လည်းပြုရမည်။-
၁၅ ပရိသတ်အဝင်ဖြစ်သောသူ၊သင်တို့တွင်တည်း
ခိုသောအပါး၊ အမျိုးသားဖြစ်သော သူတို့သည်၊
သင်တို့အမျိုး အဆက်ဆက် စောင့်ရသောတ
ပါး တည်းသော ထုံးစံရှိ၍၊ ထာဝရ ဘုရားရှေ့
တော်၌သင်တို့သည်ဖြစ်သည်နည်းတူ၊ သူသည်
၁၆ လည်းဖြစ်ရမည်။-သင်တို့ကိုယ်တိုင်မှစ၍၊သင်
တို့တွင်တည်းခိုသောအပါး၊ အမျိုးသားတို့သည်၊
တပါး တည်းသော တရား၊ တပါးတည်းသော
ထုံးစံရှိရကြမည်ဟု မိန့်တော်မူ၏။
၁၇ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
သည်ဣသရေလ အမျိုးသားတို့အား ဆင့်ဆိုရ
၁၈ မည်မှာ၊-ငါပို့ဆောင်သောပြည်သို့သင်တို့သည်
၁၉ ရောက်၍၊- ထိုပြည်၌ ဖြစ်သောမုန့်ကို စားကြ
သောအခါ၊ ထာဝရဘုရားအား မြှောက်ရာပူ
၂၀ ဇော်သကာကို ဆက်ရမည်။- အဦးနယ် သော
မုန့်မိမ်းဖြင့်လုပ်သော မုန့်ပြားကို မြှောက်ရာ
ပူဇော်သကာပြု၍၊ ကောက်နယ်တလင်းထဲက
ရှိ မြှောက်ရာ ပူဇော် သကာကို ပြုသကဲ့သို့ မြှ
၂၁ မြှောက်ရမည်။-သင်တို့အမျိုး အဆက်ဆက်
တို့သည်၊ အဦး နယ် သော မုန့် မိမ်း ထဲ က ရှိ
မြှောက်ရာ ပူဇော် သကာကို၊ ထာဝရ ဘုရား
အားဆက်ရကြမည်။
၂၂ ထာဝရဘုရားသည် မောရှေကိုမှာထားသော
၂၃ နေ့မှစ၍၊ မောရှေအားဖြင့်သင်တို့၌ထားတော်
မူသော ပညတ်၊ သင်တို့အမျိုးအဆက်ဆက်၌
ထားတော်မူလတ္တံ့သော ပညတ်အလုံး စုံတို့ကို
သင်တို့ သည်မစောင့်၊ မှားယွင်းခြင်းသို့ ရောက်
၂၄ ကြသည်အမှုမှာ၊-ပရိသတ်အပေါင်းတို့သည်
မသိဘဲ သတိလစ်၍၊ မှားယွင်းခြင်းသို့ ရောက်
လျှင်၊ ပရိသတ် အပေါင်း တို့သည်၊ ထာဝရ
ဘုရားအဖို့ မွှေးကြိုင်သောအနံ့ရှိစေခြင်းငှါ၊ထုံး
စွဲသော ထုံးစံ ရှိသည် အတိုင်း၊ ဘောဇဉ်ပူ
ဇော်သကာ၊ သွန်းလောင်းရာပူဇော်သကာနှင့်
တကွ၊ အသက် ပျိုသော နွား ထီးဖြင့် မီး ရှို့ရာ
ယဇ်ကို၎င်း၊ ဆိတ်ဖြင့်အပြစ်ဖြေရာယဇ်ကို၎င်း
၂၅ ပူဇော်ရကြမည်။- ယဇ်ပုရောဟိတ်သည်၊ ဣ
သရေလအမျိုးသား ပရိသတ် အပေါင်းတို့အ
ဖို့အပြစ်ဖြေခြင်းကိုပြုရသဖြင့်၊ သူတို့သည်အ
ပြစ်လွတ်၍ ဖြစ်မှား သော အကြောင်း၊ ထိုအပြစ်ကို

ထွတ်ရထိမ်စည်း၊ သူတို့အသည်လည်း၊ ထတိထန်
သောအပြစ်ကြောင့်၊ အပြစ်ဖြေရာ ထစ်နှင့်တ
ထွား မီးဖြင့်ပြုသော ပူဇော် ထကာကို ထာဝရ
၂၆ ဘုရားထံတော်သို့ဆောင်ခဲ့ရကြမည်၊- ထိုသို့ပြု
လျှင်၊လူအပေါင်းတို့သည် ပြစ်မှားသော်လည်း၊
ထတိထန်၍ ပြစ်မှားသောကြောင့်၊ ဣသရေလ
အမျိုးသားပရိသတ်အပေါင်းကိုငှင်၊ သူတို့ထံ
မှာတည်းခိုသောတပါးအမျိုးသားကိုငှင် ထိုအ
ပြစ်မှလွှတ်ရထိမ့်မည်။
၂၇ လူတစုံတယောက်သည် ထတိထန်၍ပြစ်မှား
လျှင်၊အပြစ်ဖြေရာ ထစ်ဖို့ အခါမထည်သော
၂၈ ဆိတ်မ တကောင်ကို ဆောင်ခဲ့ရမည်၊- ထာဝရ
ဘုရားရှေ့တော်၌ ထတိထန်၍ ပြစ်မှားမိသော
ထိုသူအဖို့၊ ထစ်ပရော ထိတ် ထည် အပြစ်ဖြေ
ခြင်းကိုပြုရ သဖြင့်၊ ထို အပြစ်ကို လွှတ် ရထိမ့်
၂၉ မည်၊- ဣသ ရေ လ အ မျိုး သား ဖြစ် သော သူ၊
တည်းခိုသောတပါးအမျိုးသားဖြစ်သောသူတို့
ထည်၊ ထတိထန်၍ပြစ်မှားသောအခါ၊ တပါး
တည်းသောတရားကိုစောင့်ရကြမည်။
၃၀ ဣသရေလ အမျိုးသားဖြစ်စေ၊ တပါးအမျိုး
သား ဖြစ်စေ၊ ခဲ ရင့် စွာပြစ်မှားလျှင်၊ ထာဝရ
ဘုရားကို မရိုသေရာသို့ရောက်သည်ဖြစ်၍၊ ထို
၃၁ သူကို သူ၏အမျိုးမှ ပယ်ရှင်းရမည်၊- ထာဝရ
ဘုရား၏ စကားတော်ကိုမထီမဲ့မြင်ပြု၍ပညတ်
တော်ကို လွန်ကျူးသောကြောင့်၊ ထိုသူကိုရှင်း
ရှင်းပယ်ရှားရမည်၊ မိမိအပြစ်ကို မိမိခံရမည်
ထုမိန့်တော်မူ၏။
၃၂ ဣသရေလအမျိုးသားတို့သည် တော၌ရှိကြ
သော အခါ၊ တနေ့သော ဥပုသ်နေ့၌ ထင်းခွေ
၃၃ သောသူတယောက်ကိုတွေ့သော်၊-တွေ့သောသူ
တို့သည်၊ထိုသူကိုမောရှေ၊ အာရုန်၊ ပရိသတ်
၃၄ အပေါင်းတို့ရှေ့သို့ခေါ်ခဲ့ကြ၏၊-သူ၏အမှုကို မ
ရှင်းရာလမ်းမထင်ရှားသေးသောကြောင့်၊ ချုပ်
၃၅ ထားကြ၏၊- ထာဝရဘုရားကလည်း၊ ထိုသူသည်
အသေသတ်ခြင်းကို အမှန်ခံရမည်၊ ပရိသတ်
အပေါင်းတို့သည်၊ တပ်ပြင်မှာသူကိုကျောက်ခဲ
နှင့် ပြစ်ရကြမည်ဟု၊ မောရှေအား မိန့်တော်မူ
၃၆ ၍၊-ထိုအမိန့်တော်အတိုင်း ပရိသတ်အပေါင်း
တို့သည်၊ ထိုသူကို တပ်ပြင်သို့ ဆောင်သွား၍၊
ကျောက်ခဲနှင့် ပြစ်ကြသဖြင့် သူသည်အသေခံ
ရ၏။
၃၇ တဖန်မောရှေအား ထာဝရဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ထန့်ဆိုရ
၃၈ မည်မှာ၊-သူတို့အမျိုးအစဉ်အဆက်တို့သည်၊
အဝတ်နားတို့၌ဆွဲစရာတို့၊ ပန်းပွားတို့ကိုလုပ်
၃၉ ၍၊ပြာသောကြိုးနှင့်ချည်တွဲရကြမည်၊-ထိုပန်း
ပွားတို့ကို သင်တို့သည် ကြည့်မြင်သောအခါ၊
ထာဝရ ဘုရား ပညတ် တော်မှု ထ မှုတို့ ကို
အောင်းမေ့၍ကျင့်ကြမည်အကြောင်း၊အထက်
ကကိုယ်အလိုသို့လိုက်လျှက်၊ ကိုယ်ညာဏ်ကို
၄၀ မှီ၍လျှက် မှားယွင်းသကဲ့သို့မလိုက်၊မမှီဘဲ၊- ငါ
ပညတ်သမျှတို့ကို အောင်း မေ့၍ ကျင့်သဖြင့်၊
သင်တို့ ဘုရား သခင် အဖို့ သန့် ရှင်း မည် အ
၄၁ ကြောင်း ထိုသို့ ပြုရမည်၊- ငါသည် သင် တို့၏
ဘုရားသခင် ဖြစ်ခြင်းငှါ၊ သင်တို့ကို အဲဂုတ္တု
ပြည်မှ နှုတ်ဆောင်ခဲ့သော၊ သင်တို့၏ဘုရားသ
ခင် ထာဝရ ဘုရား ဖြစ်၏။ ငါ သည် သင် တို့၏
ဘုရား သခင် ထာဝရ ဘုရား ဖြစ်သည်ဟု မိန့်
တော်မူ၏။

## ၁၆

၁ လေဝိ အမျိုး၊ ကောဟတ် သား ဣဇဟာ၏
သားကောရသည်၊ရုဗင်အမျိုးဧလျာဘ၏သား
ဒါသန်နှင့် အဘိရံ၊ ပေလက်၏သား ဩနတို့ကို
၂ ခေါ်ပြီး လျှင်၊-ပရိသတ်၌ကျော်စော၍ဂုဏ်အ
သရေရှိသောသူ၊ အစည်းအဝေး၌မင်းပြုသော
သူ၊ ဣသရေလ အမျိုးသား နှစ်ရာငါးဆယ်နှင့်
၃ တကွ၊မောရှေကိုဝန်ကန်၍၊-မောရှေနှင့်အာရုန်
တဖက်၌စုဝေးလျက်၊ သင်တို့သည် ဖမူတော်
ကိုစောင့်လွန်း၏၊ ပရိသတ်ရှိသမျှအပေါင်းတို့
သည်သန့်ရှင်းကြ၏၊ ထာဝရဘုရားသည်သူတို့
တွင်ရှိတော်မူ၏၊ သို့ဖြစ်၍၊ သင်တို့သည်ထာဝ
ရ ဘုရား၏ ပရိ သတ် အ ပေါ်မှာ၊ အ ထယ်
ကြောင့်ကိုယ်ကိုကိုယ် ချီးမြှောက်ရသနည်းဟု
၄ ဆိုလေ၏၊-ထိုစကားကိုမောရှေကြားလျှင်၊ပြပ်
၅ ဝပ်လျက်နေ၏၊- တဖန်မောရှေက၊ အဘယ်သူ
သည် ထာဝရဘုရား၏ လူဖြစ်သည်ကိုငှင်၊ အ
ဘယ်သူ သန့်ရှင်း သည်ကိုငှင်၊ အဘယ်သူကို
ချည်းကပ်စေမည်ကိုငှင်၊ နက်ဖန်နေ့၌ထာဝရ
ဘုရား ပြတော်မူမည်၊ ရွေး ကောက် တော် မူ
သောသူကိုလည်း၊ အနီးအပါးသို့ချည်းကပ်စေ
၆ တော်မူမည်၊-ဟိုကောရနှင့်ကောရ၏အပေါင်း
အသင်းရှိသမျှတို့၊ သင်တို့ ပြုရမည် အမှုဟူမူ
၇ ကား၊ထင်ပန်းတို့ကိုယူ၍၊-နက်ဖန်နေ့၊ထာဝရ
ဘုရား ရှေ့တော် ၌ မီးနှင့်လောဗန်ကို တင်ပြ

သော့၊ ထိုအခါ၊ ထာဝရဘုရား ရွေးကောက်
တော်မူသောသူသည်၊ သန့်ရှင်းသောသူဖြစ်စေ။
ဆို လေ ဝိသားတို့၊ သင် တို့သည် အမှု တော်ကို
၈ ခေါင်လွန်းကြသည်ထု ဆိုလေ၏။- တဖန်မော
ရှေက၊ ဆို လေ ဝိ သားတို့၊ နား ထောင် ကြ ပါ
၉ လော့။-သင်တို့သည် ထာဝရဘုရား၏ ထဲတော်
အမှုကို ဆောင်ရွက်၍၊ ပရိသတ် ရှေ့မှာ ရပ်
လျက်၊ သူတို့အမှုကိုထည်းဆောင်စေမည်အကြ
မ်ိုးတော်မူသည်နှင့်၊ ဣသရေလအမျိုး၏ ဘုရား
သခင်သည်၊ သင်တို့ကိုအနီး ပေါ်သို့ခေါ်၍
နေရာချခြင်းငှါ၊ ဣသရေလအမျိုးပရိသတ်နှင့်
၁၀ ခွဲထား၍၊. သင့်ကိုငှင်၊ သင့်ညီ အစ်ကို လေဝိ
သားအပေါင်းတို့ကိုငှင်၊ အနီးအပါး၌နေရာချ
တော်မူသော ကျေးဇူးတော်ကို မထိမဲ့မြင်ပြု၍၊
ယခု ပရောဟိတ် အရာကိုလည်း ရှာကြသည်
၁၁ တကား။-ထိုကြောင့်၊ သင်နှင့်သင်၏ အပေါင်း
အသင်းရှိသမျှတို့သည် ထာဝရဘုရားတဖက်၌
စုဝေးကြပြီတကား။ အာရုန်ကို အပြစ်တင်၍
မြည်တမ်းရမည်အကြောင်း၊ သူသည်အဘယ်
သို့သော သူဖြစ် သနည်းဟု၊ ကောရအားဆိုပြီး
၁၂ မှ၊-ဧလျာဘသား၊ ဒါသန်နှင့် အဘိရံတို့ကိုခေါ်
ခြင်းငှါစေလွှတ်လေ၏။ သူတို့ကလည်း၊ ငါတို့မ
၁၃ လာ။- သင်သည် ဤ တော၌ငါတို့ကိုသတ်လို၍
နို့နှင့် ပျားရည် စီးသော ပြည်မှ ဆောင် ခဲ့ သော်
ထည်း၊ ငါတို့အပေါ်၌လုံးလုံးမင်းမပြုရလျှင်၊
၁၄ စိတ်မပြေသေးသည်တကား။-ထိုမှတပါး၊ နို့နှင့်
ပျား ရည် စီးသော ပြည်သို့ ငါတို့ကို မဆောင်၊
လယ်ယာများ၊စပျစ်ဥယျာဉ်များကိုမပေးဘဲ၊ဤ
လူတို့၏ မျက်စိကို ဖောက်ချင် သလော၊ ငါတို့
၁၅ သည် သင့်ထံသို့ မလာဟု ပြန်ဆို၏။- မောရှေ
သည်အလွန်အမျက်ထွက်၍၊ဤသူတို့ပူဇော်သ
ကာကိုပမာဏပြုတော်မမူပါနှင့်၊ သူတို့ဥမ္မာမြည်
တကောင်ကိုမျှအကျွန်ုပ်မသိမ်းပါ၊ သူတို့တွင်
တယောက်ကိုမျှမညှဉ်းဆဲပါဟု၊ ထာဝရဘုရား
၁၆ အားလျှောက်၍၊- ကောရအားလည်း၊ အာရုန်
နှင့် သင်အစရှိသော သင်၏ အပေါင်း အသင်းရှိ
သမျှ တို့သည်၊ နက်ဖန်နေ့၊ ထာဝရဘုရားရှေ့
၁၇ တော်၌ ရှိကြလော့။- လူ အသီးအသီး တို့သည်
မိမိတို့ လင်ပန်းများကိုယူ၍၊ လောဗန်ကို တင်
ပြီးမှ၊ သင်နှင့် အာရုန် သည်လည်း မိမိတို့လင်
ပန်းပါလျက်၊လူအပေါင်းတို့သည်၊ လင်ပန်း၊ နှစ်
ရာငါး ဆယ်တို့ကို ထာဝရ ဘုရား ရှေ့တော်သို့
၁၈ ဆောင်ခဲ့ကြလော့ဟု ဆိုသည်အတိုင်း။- ထိုသူ
အသီးအသီးတို့သည် မိမိတို့လင်ပန်းများကိုယူ
၍၊ မီးနှင့်လောဗန်ကိုတင်ပြီးမှ၊ မောရှေ၊ အာ
ရုန်နှင့် အတူ၊ ပရိသတ် စည်းဝေးရာ ထဲ တော်
တံခါးဝ၌ရပ်နေကြ၏။
၁၉ ကောရ သည်လည်း၊ ပရိသတ်စည်းဝေးရာ
ထဲတော်တံခါးဝ၌၊ ပရိသတ် အပေါင်းတို့ကို
မောရှေနှင့်အာရုန်တဖက်၌စုဝေးစေပြီးမှ၊ထာ
ဝရ ဘုရား ၏ ဘုန်း တော် သည် ပရိသတ် အ
၂၀ ပေါင်းတို့၌ ထင်ရှားလေ၏။- ထာဝရ ဘုရားက
၂၁ လည်း၊ ဤပရိသတ်တို့နှင့်ခွာ၍ တခြားမှာနေ
လော့၊ ငါသည်သူတို့ကိုချက်ချင်းဖျက်ဆီးမည်
ဟု၊ မောရှေနှင့်အာရုန်အား မိန့်တော်မူလျှင်။-
၂၂ သူတို့က၊ ပြပ်ဝပ်လျက်၊ အို ဘုရားသခင်၊ ခပ်
သိမ်းသောသတ္တဝါတို့၏အသက်ဝိညာဉ်များကို
အစိုးရတော်မူသောဘုရားသခင်၊လူတယောက်
ပြစ်မှားသောအပြစ်ကြောင့် ပရိသတ်အပေါင်း
တို့ကို အမျက် ထွက် တော် မူ မည် လော ဟု
၂၃ လျှောက်ဆိုလေ၏။- ထာဝရဘုရားကလည်း။
၂၄ ကောရ၊ဒါသန်၊အဘိရံတို့၏ထဲများကိုရှောင်၍
နေစေခြင်းငှါ၊ ပရိသတ်တို့အား ဆင့်ဆိုလော့
ဟု၊ မောရှေအား မိန့်တော်မူသည် အတိုင်း။-
၂၅ မောရှေထ၍၊ ဣသရေလ အမျိုး အသက်ကြီး
သူတို့နှင့် တကွ၊ ဒါသန်၊ အဘိရံ နေရာသို့သွား
၂၆ ပြီးမှ၊- ဤလူဆိုးတို့၏ နေရာထဲများကို ရှောင်၍
နေကြ ပါလော့၊ သူတို့၏ ဥစ္စာ တစုံ တခုကိုမျှ မ
ထိကြပါနှင့်၊ သို့မဟုတ်၊သူတို့နှင့်အတူ၊သူတို့
အပြစ်ကြောင့် ပျက်စီးခြင်းသို့ ရောက် ကြ လိမ့်
၂၇ မည်ဟု၊ ပရိသတ်တို့အား ဆင့်ဆိုလျှင်။- ထို
များတို့သည် ကောရ၊ဒါသန်၊အဘိရံထဲပတ်ဝန်း
ကျင်၌ မနေဘဲရှောင်ဖွဲ့၍ သွားကြသဖြင့်၊ ဒါ
သန်၊ အဘိရံသည်၊သားမယားအကလေးများ
နှင့်တကွထွက်၍၊ မိမိတို့ထဲတံခါးဝ၌ ရပ်နေကြ
၂၈ ၏။- မောရှေကလည်း၊ ဤအမှုအလုံးစုံတို့ကိုငါ
သည်အလိုလိုမပြု၊ ထာဝရဘုရား စေခိုင်းတော်
မူ၍ငါပြုသည်အကြောင်းကို၊ သင်တို့သည် အ
၂၉ ဘယ်သို့သိရမည်နည်း ဟူမူကား။- ခပ်သိမ်း
သောလူသတ္တဝါတို့ခံရသောသေခြင်း၊ခပ်သိမ်း
သောလူသတ္တဝါတို့ခံရသောဆုံးခြင်းကိုသာဤ
လူတို့ခံရလျှင်၊ထာဝရဘုရားသည်ငါ့ကိုစေလွှတ်
၃၀ တော်မမူ။- သို့မဟုတ်၊ထာဝရဘုရားသည် အ
ထူးဖန်ဆင်းတော်မူသဖြင့်မြေကြီးကွဲ၍မျက်

ဤထုထိုကိုငှ၆၊ လူတို့နှင့်ဆိုင်သမျှကိုငှ၆ ရှိ၍၊
လူတို့ သည် အသက် ရှင်လျက် သေမင်း၊ နိုင်ငံ
သို့ ဆင်းသွားလျှင်၊ ထာဝရဘုရား၌ ပြစ် မှား
ကြောင်းကို၊ သင်တို့သည်သိနားလည်ရကြလိမ့်
၃၁ မည်ထု-ပြောဆိုပြီးသည်အဆုံး၌၊သူတို့နင်းရာ
၃၂ မြေကြီးသည်ကွဲ၍- မိမိ်ခံတွင်းကိုဖွင့်သဖြင့်၊သူ
တို့နှင့်သူတို့အိမ်ရှားကိုငှ၆၊ ကောရနှင့်ဆိုင်သ
မျှသော လူတို့နှင့် သူတို့ဥစ္စာ ရှိသမျှ ကိုငှ၆ မျို
၃၃ သော်၏။- ထိုသူတို့သည်ကိုယ်တိုင်မှစ၍၊ဆိုင်သ
မျှသော သူတို့နှင့်တကွ၊ အသက်ရှင်လျက်သေ
မင်းနိုင်ငံသို့ ဆင်းသက်၍၊ သူတို့အပေါ်မှာမြေ
ဖုံးပြန်သဖြင့်၊ သူတို့သည်ပရိသတ်မှပယ်ရှင်း
၃၄ ခြင်းကိုခံရကြ၏။- သူတို့အော်ဟစ်သံကို၊ပတ်
ဝန်းကျင်၌ ရှိသော ဣသရေလ အမျိုး သား တို့
သည်ကြားလျှင်၊ငါတို့ကိုလည်း မြေမျိုကောင်း
၃၅ မျိုလိမ့်မည်ထု မိုးရိမ်လျက် ပြေးကြ၏။-နံ့သာ
ပေါင်းကို မီးရှို့၍ပူဇော်သောသူနှစ်ရာငါးဆယ်
တို့ကိုလည်း၊ထာဝရဘုရားထံတော်ကမီးထွက်
၍ လောင်လေ၏။
၃၆ ထာဝရဘုရားကလည်း၊ ထိုသန့်ရှင်းသော
၃၇ ထင်ပန်းတို့ကို မီးလောင်ရာ ထဲက ကောက်ယူ
၃၈ ၍မီးကို ဖြစ်ချပြီးမှ၊- ကိုယ်အသက်ကိုသေစေ
ခြင်းငှါ ပြစ်မှားသော သူတို့၏ ထင်ပန်း တို့ဖြင့်၊
ယဇ်ပလ္လင်ကို ဖုံးအုပ်စရာ ကြေးဝါ ပြား တို့ကို
လုပ်ရမည်အကြောင်း၊ ယဇ်ပရောဟိတ်အာရုန်
၏သား ဧလာဇာကိုဆင့်ဆိုလော့၊ထာဝရဘုရား
ရှေ့တော်၌ပူဇော်သောကြောင့်၊ ထိုထင်ပန်းတို့
သည် သန့်ရှင်း သည်ဖြစ်၍၊ ဣသရေလ အမျိုး
သား တို့အား နိမိတ်ဖြစ်ရကြမည်ထု၊ မောရှေ
၃၉ အား မိန့်တော် မူ သည် အတိုင်း။- ယဇ် ပရော
ဟိတ် ဧလာဇာ သည်၊ မီးလောင် ခြင်း ကို ခံရ
သော သူတို့ ပူဇော်သော ထင်ပန်း များကို ယူ၍၊
ယဇ်ပလ္လင်ကို ဖုံးအုပ်စရာ ကြေးဝါပြား တို့ကို
၄၀ လုပ်လေ၏။- ထိုသို့ အာရုန်အမျိုးမဟုတ်၊ အ
ခြား တပါးသော အမျိုး သား သည်၊ ထာဝရ
ဘုရားရှေ့တော်၌ နံ့သာပေါင်းကိုမီးရှို့၍ပူဇော်
သော အားဖြင့်၊ ကောရ နှင့် သူ၏ အပေါင်း အ
သင်းကဲ့သို့ မဖြစ်စေမည် အကြောင်း၊ ထာဝရ
ဘုရား သည် မောရှေ အားဖြင့် မှာ ထားတော်မူ
သည်အတိုင်း၊ ထိုထင်ပန်း တို့သည် ဣသရေလ
အမျိုး သား တို့အား သတိပေးရာ နိမိတ် ဖြစ်ရ
ကြ၏။

၄၁ နက်ဖန်နေ့၌ဣသရေလအမျိုးသားပရိသတ်
အပေါင်းတို့က၊ သင်တို့သည် ထာဝရ ဘုရား၏
လူတို့ကို သတ်ကြပြီဟု ဆိုလျက်၊ မောရှေနှင့်
အာရုန်တို့ကို အပြစ်တင်၍ မြည်တမ်းကြ၏။-
၄၂ ပရိသတ်အပေါင်းတို့သည် မောရှေနှင့်အာရုန်
တဖက်၌ စုဝေးကြသောအခါ၊ ပရိသတ်စည်း
ဝေးရာတဲတော်သို့ မျှော်ကြည့်၍၊ မိုဃ်း တိမ်
သည်တဲတော်ကို လွှမ်းမိုး၍၊ ထာဝရဘုရား၏
၄၃ ဘုန်းတော်သည် ထင်ရှားလေ၏။- မောရှေနှင့်
အာရုန်တို့သည်ပရိသတ်စည်းဝေးရာတဲတော်
၄၄ ရှေ့သို့ချဉ်းကပ်ကြ၏။-ထာဝရဘုရားကလည်း၊
၄၅ ဤ ပရိသတ် တို့ကို ရှောင်၍ နေကြလော့။ ငါ
သည်သူတို့ကို ချက်ချင်းဖျက်ဆီးမည်ထု၊ မော
ရှေအား မိန့်တော်မူလျှင်၊ သူတို့သည် ပြပ်ဝပ်
၄၆ လျက်နေကြ၏။- မောရှေကလည်း၊ သင်သည်
ထင်ပန်းကိုကိုင်၍၊ ယဇ်ပလ္လင်ပေါ်က မီးကိုယူ
ထည့်ပြီးလျှင်၊ လောဗန်ကိုလည်း တင် လျက်၊
ပရိသတ်ရှိရာသို့ အလျင် အမြန်သွား၍ အပြစ်
ဖြေခြင်းကိုပြုလော့။ ထာဝရဘုရား ထံတော်က
အမျက်တော်ထွက်၍ဘေးဥပါဒ်ရောက်လျက်
၄၇ ရှိပြီထု၊- အာရုန်အား မှာထားသည် အတိုင်း၊
အာရုန်သည်ယူ၍ ပရိသတ်ထဲသို့ပြေးလေ၏။
ထိုအခါ လူ တို့၌ ဘေးဥပါဒ် ရောက်စ ရှိသည်
ဖြစ်၍၊ လောဗန်ကိုတင်သဖြင့် လူ များတို့အဖို့အ
၄၈ ပြစ်ဖြေခြင်းကိုပြု၏။- အသက်ရှင်သောသူ၊သေ
သောသူစပ်ကြားမှာရပ်နေ၍၊ ဘေးဥပါဒ်ငြိမ်း
၄၉ လေ၏။-ကောရ အမှုကြောင့် သေသောသူတို့ကို
ထား၍၊ ထိုဘေးဥပါဒ်ဖြင့်သေသောလူပေါင်း
ကား၊ တ သောင်း လေး ထောင် ခုနှစ် ရာ ရှိသ
၅၀ တည်း။- ထိုဘေး ဥပါဒ် ငြိမ်း ပြီးမှ၊ အာရုန်
သည်ပရိသတ် စည်းဝေးရာ တဲတော်တံခါးဝ၊
မောရှေထံသို့ပြန်လာ၏။

၁၇

၁ တဖန် ထာဝရဘုရားသည် မောရှေအား မိန့်
၂ တော်မူသည်ကား၊ သင်သည်ဣသရေလအမျိုး
သားတို့အားဆင့်ဆိုပြီးမှ၊ ထိုးဘ အဆွေအမျိုး
အလိုက်၊ ဣသရေလ ဆယ်နှစ်မျိုး၌မင်းပြုသော
သူ အသီး အသီး ပေး ရ သော လှံတံ ဆယ် နှစ်
ချောင်း တို့ကိုယူ၍၊ လူ တိုင်း အမည်ကို သူ့လှံတံ
၃ ပေါ်မှာ ရေးထားလော့။- လေဝိအမျိုး၏ လှံတံ
ပေါ်မှာအာရုန်အမည်ကိုရေးထားလော့၊ ထိုးဘ
အဆွေအမျိုးသူကြီးတဦးလျှင်၊ လှံတံတချောင်း

၄ ရှိရမည်။— ထိုလှံတံတို့ကိုငါဗျာဒိတ်ပေးရာအ
ရပ်၊ ပရိသတ်စည်းဝေးရာ တဲတော်အတွင်း၌
၅ သက်သေခံချက်ရှေ့မှာတင်ထားလော့။—ငါရွေး
ကောက်သော သူ၏ လှံတံသည် အပွင့်ပွင့်လိမ့်
မည်။ထိုသို့ပြု၍၊ ဣသရေလအမျိုးသားတို့သည်၊
သင်တို့အပြစ်တင်၍မြည်တမ်းခြင်းကို နောက်တ
ဖန်ငါနားမညီးရာဟုမိန့်တော်မူသည်အတိုင်း။—
၆ မောရှေ သည် ဣသ ရေလ အမျိုး သားတို့ အား
ဆင့်ဆို၍၊မင်းအပေါင်းတို့သည်၊ အိုးဘအဆွေ
အမျိုး၊ အထိုက်၊ မင်းတဦးလျှင် လှံတံတချောင်း
စီ၊ လှံတံဆယ်နှစ်ချောင်းတို့ကို ပေးကြ၏။ အာ
ရုန်၏လှံတံသည်လှံတံများ၌ပါသတည်း။—မော
ရှေသည်ထိုလှံတံတို့ကို သက်သေခံချက် တဲတော်
အတွင်း၊ထာဝရဘုရားရှေ့တော်၌တင်ထားလေ
၈ ၏။— နက်ဖြန်နေ့၌ သက်သေခံချက်တဲ တော်အ
တွင်းသို့မောရှေဝင်သောအခါ၊ လေဝိအမျိုးနှင့်
ဆိုင်သောအာရုန်၏ လှံ တံသည် အ ရွက်ထွက်
လျက်၊ ငုံလျက်၊ ပွင့်လျက်၊ ဗာဒံ သီး ကို သီး
၉ လျက် ရှိ၏။— မောရှေသည် လှံတံရှိသမျှ တို့ကို၊
ထာဝရဘုရား၏ထံတော်က ဣသရေလအမျိုးသား
တို့ရှေ့သို့ထုတ်ဆောင်သဖြင့်၊ သူတို့သည်ကြည့်
၁၀ ရှု၍၊ လူတိုင်းမိမိလှံတံကို ယူပြန်လေ၏။— ထာ
ဝရဘုရားကလည်း၊ ပုန်ကန်သောသူတို့တဝက်
၌ သက်သေ ဖြစ်စေခြင်းငှါ၊ အာရုန်၏ လှံတံကို
သက် သေ ခံချက် ရှေ့၌ ပြန် ထား၍ အမြဲ ရှိစေ
လော့။ ထိုသို့သူတို့သည်သေဘေးနှင့် လွတ်မည်
အကြောင်း၊ သူတို့အပြစ်တင်၍မြည်တမ်းခြင်း
ကိုငါ နား မညီး ရာဟု၊— မော ရှေ အား မှာထား
တော်မူသည်အတိုင်း၊ မောရှေသည်ပြုလေ၏။—
ဣသရေလအမျိုးသားတို့ကလည်း၊ အကျွန်ုပ်တို့
သည်သေကြေပျက်စီးကြပါ၏။ တယောက်မျှမ
၁၃ ကြွင်း၊ ပျက်စီးရကြပါ၏။— ထာဝရဘုရား၏ တဲ
တော်ကို ချဉ်း ကပ် သော သူတိုင်း သေ ပါ လိမ့်
မည်။ အကျွန်ုပ်တို့ရှိသမျှသည်သေဘေးသင့်၍
ဆုံးရှုံးခြင်းသို့ ရောက်ရကြပါဦးမည်လောဟု၊
မောရှေအားလျှောက်ဆိုကြ၏။

၁၈

၁ တဖန် ထာဝရ ဘုရားသည် အာရုန်အားမိန့်
တော်မူသည်ကား၊ သင်နှင့်သင်၏ သား၊ ဖြေအ
ဆွေအမျိုးတို့သည်၊ သန့်ရှင်းရာဌာနတော်နှင့်
ဆိုင်သောအပြစ်၊ သင်တို့ယဇ်ပုရောဟိတ်အရာ
၂ နှင့်ဆိုင်သောအပြစ်ကိုခံရကြမည်။-သင်၏အိုး
ဘအဆွေအမျိုး၊ လေဝိအမျိုးသားညီအစ်ကိုချင်း
တို့သည်၊ သင်နှင့် အတူ ရှိ၍၊ အမှုတော်ကို
ဆောင်ရွက် စေခြင်းငှါ ခေါ် ထားလော့။ သို့ရာ
တွင်၊ သင်နှင့်တကွသင်၏သားတို့သည်၊ သက်
သေခံချက်တဲတော်ရှေ့မှာ အမှုတော်ကို ဆောင်
၃ ရွက် ရကြမည်။— လေဝိသားတို့သည် သင့်ကို
ငှင်၊ တဲတော်ရှိသမျှကိုငှင် စောင့်ရကြမည်။သို့
ရာတွင်၊ သင်တို့နှင့် သူတို့သည် သေဘေးလွတ်
မည်အကြောင်း၊ သူတို့သည်တဲတော်တန်ဆာ၊
ယဇ်ပလ္လင်တန်ဆာများကို မချဉ်းကပ်ရကြ။—
၄ သူတို့သည် သင်တို့နှင့်အတူ ကူညီ၍၊ ပရိသတ်
စည်းဝေးရာ တဲတော်ကို စောင့်လျက်၊ တဲတော်
အမှု ရှိသမျှကို ထမ်းရကြမည်။ မဆိုင်သောသူ
၅ သည်သင်တို့အနီးသို့မချဉ်းမကပ်ရ။— နောက်
တဖန် အမျက်တော်ထွက်၍၊ ဣသရေလအမျိုး
သားတို့ အပေါ်သို့ မရောက်မည် အကြောင်း၊
သင်တို့သည်၊ သန့်ရှင်းရာဌာနတော်နှင့် ယဇ်
၆ ပလ္လင်ကို စောင့်ရကြမည်။— ထိုသို့သင်တို့၏ညီ
အစ်ကိုလေဝိသားတို့ကို၊ဣသရေလအမျိုးသား
တို့ထဲက ရွေးယူ၍၊ ပရိသတ် စည်းဝေးရာ တဲ
တော်အမှုကို ထမ်းစေခြင်းငှါ၊ ထာဝရ ဘုရား
အားပြုသော ပူဇော်သကာကဲ့သို့၊ သင်တို့အား
၇ ငါပေး၏။— ထိုကြောင့် သင်နှင့်သင်၏ သားတို့
သည်၊ ယဇ်ပလ္လင်နှင့်ဆိုင်သောအမှု၊ ကုလား
ကာအတွင်း၌ ဆောင်ရွက်စရာ အမှုရှိသမျှ တို့
ကို၊ ယဇ်ပုရောဟိတ်ပြု၍ဆောင်ရွက်ရကြမည်။
သင်တို့အား၊ ကျေးဇူးပြု၍ ယဇ်ပုရောဟိတ်အ
ရာကို ငါပေးပြီ။ မဆိုင်သော သူသည် အနီးအ
ပါးသို့ချဉ်းကပ်လျှင်၊ အသေသတ်ခြင်းကို ခံရ
မည်ဟုမိန့်တော်မူ၏။
၈ တဖန် ထာဝရဘုရားသည် အာရုန်အား မိန့်
တော်မူသည်ကား၊ ဣသရေလ အမျိုးသား တို့
သည်သန့်ရှင်းစေ၍ဆက်ကပ်သမျှသောပူဇော်
သကာတို့ အထဲက၊ ငါ့အား မြှောက်သော ပူ
ဇော်သကာတို့ကိုသင့်၌အပ်၍၊ သင်နှင့်သင်၏
သား တို့အဖို့ ဖြစ် စေ ခြင်းငှါ၊ ထာဝရ ပညတ်
၉ တရားအားဖြင့်ငါပေး၏။— မီးသို့မရောက်၊ သန့်
ရှင်းသောအရာထဲက သင်တို့ဆိုင်သောအရာဟူ
မူကား၊ ဣသရေလ အမျိုးသား လှူသော ပူဇော်
ဘောဇဉ်ပူဇော်သကာ၊ အပြစ်ဖြေရာယဇ်၊ ဒု
စရိုက်ဖြေရာယဇ်ပူဇော်သောသမျှတို့သည်၊ သင်
၁၀ နှင့်သင်၏သားတို့အဖို့သန့်ရှင်းရကြမည်။— သန့်

ရှင်ရော ဓားနှင့်ဆော်ရမည်၊ သောက်ဖြားထပေါင်း၊ တို့သည်စားရသောအလှူငွေမှာ၊ သင်တို့အမှိုသန့်
၁၀ ရှင်းပေ၏။– ထိုမှတပါး၊ ဣသရေလအမျိုးသား၊ တို့ပူဇော်သော မြှောက်ရာပူဇော်သက္ကာ၊ လှို့
ဆွဲရာ ပူဇော်သက္ကာတို့ကို၊ သင်နှင့်သင်၏သား၊ သမီးတို့အား ထာဝရ ပညတ်တရား အားဖြင့် ငါ
ပေးပြီ။ သင့်အိမ်၌သန့်ရှင်းသောသူအပေါင်းတို့
၁၁ သည် စားရသော အခွင့်ရှိ၏။– ဣသရေလအ
မျိုးသားရွေး၍ ထာဝရဘုရားအားပူဇော်သမျှ၊ အကောင်းဆုံးသောဆီ၊ အကောင်းဆုံးသော စ
ပျစ်ရည်၊ အကောင်းဆုံးသောဂျုံစပါးကိုသင်တို့
၁၂ အား ငါ ပေးပြီ။– ထာဝရဘုရား ထံတော် သို့
ဆောင်ခဲ့သမျှ၊ အဦးမှည့်သောသစ်သီးကိုလည်း၊ သင်ဆိုင်ရမည်၊ သင့်အိမ်၌သန့်ရှင်းသောသူအ
၁၃ ပေါင်း တို့သည် စားရသောအခွင့်ရှိ၏။– ဣသ
ရေလ အမျိုး၌ ကျိန်ဆို၍ ပူဇော် သမျှ တို့ကို
၁၄ လည်းသင်ဆိုင်ရမည်။– အဦး ဖွားသောသား၊ လူဖြစ်စေ၊ တိရစ္ဆာန်ဖြစ်စေ၊ ထာဝရဘုရား ထံ
တော်သို့ ဆောင်ခဲ့သမျှတို့ကို သင်ဆိုင် ရမည်၊ ထိုရာတွင်၊ လူ၏သားဦးနှင့်မစင်ကြယ်သောတိ
၁၅ ရိစ္ဆာန်၏ သားဦးကိုအမှန်ရွေးရမည်။– ရွေးရ
သောသားတို့ကို၊ အသက်တလလွန်မှ၊ သင်အ
ဖိုးဖြတ်သည့်အတိုင်း၊ ဂေရနှစ်ဆယ် နှင့်ညီသော
ဟကျပ်တော် အလိုက်၊ ငွေ ငါးကျပ်နှင့် ရွေးရ
၁၆ မည်။– နွားသားဦး၊ သိုးသားဦး၊ ဆိတ်သားဦး
တည်း သန့်ရှင်းသောကြောင့် မရွေးရ၊ သူ၏အ
သွေးကိုယဇ်ပလ္လင်ပေါ်မှာဖြန်းရမည်၊ ဆီဥကို
လည်းထာဝရဘုရားအမွှေးကြိုင်သောအနံ့ရှိ
၁၇ စေ၍၊ မီးဖြင့်ပူဇော်သက္ကာ ပြုရမည်။– အသား
မူကား၊ လှို့ဆွဲရာ ပူဇော် သက္ကာ၏ ရင် ပတ် နှင့်
၁၈ လက်ျာပခုံးကဲ့သို့၊ သင့်အမှို ဖြစ်ရမည်။– ဣသ
ရေလအမျိုးသားတို့သည် သန့်ရှင်းစေ၍ ထာဝ
ရဘုရားအားဆောင်ခဲ့သော ပူဇော်သက္ကာရှိသ
မျှတို့ကို၊ သင်နှင့်သင်၏သားသမီးတို့အား၊ ထာဝ
ရပညတ်တရားအားဖြင့်ငါပေးပြီ။ သင်အစရှိ
သော၊ သင်၏အမျိုးအနွယ်နှင့်ဆိုင်၍၊ ထာဝရ
ဘုရား ရှေ့တော်၌၊ ဆားနှင့်ရှည်သော ထာဝရ
ပဋိညာဉ်ဖြစ်သတည်း။ဟုမိန့်တော်မူ၏။
၂၀ တဖန် ထာဝရဘုရားသည် အာရုန်အား မိန့်
တော်မူသည်ကား၊ ဣသရေလ အမျိုးသားတို့
နေရာပြည်၌သင့်အမွေခံရာမြေ၊ သူတို့နှင့်ရော၍
ဝိုင်းသော အမှိုမရှိရ။ ငါသည်ကား၊ သူတို့တွင်
၂၁ သင်ပိုင်သောအမှို၊ သင့်အမွေ ဖြစ်၏။– လေ
ဝိသားတို့သည် ပရိသတ်စည်းဝေးရာတဲတော်
အမှုကိုဆောင်ရွက်သောကြောင့်၊ သူတို့အမွေခံ
စရာ၊ ဣသရေလအမျိုးသားတို့၏ဥစ္စာ ဆယ်မှို
၂၂ တမှိုကိုငါပေးပြီ။- ထိုမှစ၍၊ ဣသရေလအမျိုး
သားတို့သည် ကိုယ်အပြစ်ကိုခံ၍ သေသေးနှင့်
မတွေ့စည်အကြောင်း၊ ပရိသတ်စည်းဝေးရာ
၂၃ တဲတော်အနီးအပါးသို့မချဉ်းမကပ်ရကြ။ လေ
ဝိသားတို့သည် ပရိသတ်စည်းဝေးရာတဲတော်
အမှုကိုဆောင်ရွက်၍၊ ကိုယ်အပြစ်ကိုကိုယ်ခံရ
ကြမည်။ သူတို့သည် ဣသရေလအမျိုးသားတို့
နှင့်ရော၍ အမွေမခံ ရကြယှ၊ သင်တို့အမျိုးအ
စဉ်အဆက်စောင့်ရသောပညတ်ဖြစ်သတည်း။–
၂၄ ဣသရေလ အမျိုးသားတို့သည် ထာဝရဘုရား
အားပူဇော်သက္ကာပြုသော၊ ကိုယ်ဥစ္စာဆယ်မှို
တမှိုကို၊ လေဝိသားအမွေခံစရာအိုငါပေးပြီ၊ ထို
ကြောင့် သူတို့သည် ဣသရေလ အမျိုးသားတို့
နှင့်ရော၍အမွေမခံရဟု၊ငါမိန့်တော်မှု၏။
၂၅ တဖန် မောရှေအား ထာဝရဘုရားက၊ သင်
သည် လေဝိ သားတို့အား ဆင့်ဆို ရ မည် မှာ၊–
၂၆ သင်တို့အမွေခံစရာ၊ ငါပေးသောဣသရေလအ
မျိုးသားတို့၏ ဥစ္စာဆယ်မှိုတမှိုကို သင်တို့သည်
ခံယူသောအခါ၊ထိုအမှိုကိုဆယ်မှိုမှိုပြန်၍၊တမှို
ကို ထာဝရ ဘုရားအား ပူဇော်သက္ကာ ပြုရကြ
၂၇ မည်၊-ထိုပူဇော်သက္ကာကို၊ကောက်နယ်တလင်း
ထဲကယူသောဆန်စပါးကဲ့သို့၎င်း၊ စပျစ်သီးနယ်
ရာကျင်းထဲကယူသောစပျစ်ရည်ကဲ့သို့၎င်း၊ သင်
၂၈ တို့အမှို မှတ်ရလိမ့်မည်။– ထိုသို့သင်တို့သည်၊
ဣသရေလ အမျိုးသားတို့မှ ခံယူသော ဆယ်မှို
တမှိုထဲက၊ ထာဝရဘုရားအားပူဇော်သက္ကာပြု
ရကြမည်၊ ထိုပူဇော်သက္ကာကိုလည်း၊ ယဇ်ပ
၂၉ ရောဟိတ် အာရုန်အားလှူရကြမည်။– သင်တို့
ခံရသမျှသော အလှူတို့အထဲက၊ အကောင်းဆုံး
သောအမှို၊သန့်ရှင်းသောတမှိုကိုနုတ်ယူ၍၊ထာ
၃၀ ဝရဘုရားအား ပူဇော်သက္ကာပြုရကြမည်။– သို့
ဖြစ်၍၊သူတို့အားဆင့်ဆိုရမည်မှာ၊ လေဝိသား
တို့သည် အကောင်းဆုံးသောအမှိုကို နုတ်ယူပူ
ဇော်ပြီးမှ၊ကြွင်းသောအမှိုကို၊ ကောက်နယ်တ
လင်း၏ကျေးဇူး၊ စပျစ်သီးနယ်ရာကျင်း၏ကျေး
၃၁ ဇူးကဲ့သို့၊မိမိတို့အမှိုမှတ်ရလိမ့်မည်။-ထိုကြွင်း
သော အမှိုကို၊ ကိုယ်တိုင်မှ စ၍၊ အိမ်သူ အိမ်
သားတို့သည် စားချင်သော အရပ်ရပ်၌ စားရ

သော အခွင့်မရှိ၏၊ ပရိသတ်စည်းဝေးရာ တဲတော်၌ အမှုစောင့်သော အတွက်၊ ငါချသော ဆု ဖြစ်
၃၂ ၏။- ဖာကောင်း၊ ဆိုးသော အဖို့ကို နှုတ်ယူမှု စော်ပြီးမှ၊ ကြွင်းသော အဖို့ အားဖြင့် အပြစ်ရောက်စရာ အကြောင်းမရှိ၊ သေးထားနှင့်မတွေ့မည် အကြောင်း၊ ဣသရေလ အမျိုးသားတို့၏ သန့်ရှင်းသော ဖရာတို့ကို မညစ်ညူးစေရ ဟု မိန့်တော်မူ၏။

၁၉

၁ တဖန် ထာဝရဘုရားသည် မောရှေနှင့် အာရုန်တို့ကိုခေါ်၍၊ ထာဝရဘုရား စီရင်ထုံးဖွဲ့တော်မူ
၂ သော ပညတ်တရားဟူမူကား၊- အပြစ်မပါ၊ တခါမျှ ထမ်းဘိုးမတင်၊ ကွက်ကျားခြင်းမရှိ၊ အဆင်းနီသော နွားမပျိုကို၊ ဣသရေလ အမျိုးသားတို့သည် ဆောင်ခဲ့မည် အကြောင်း ဆင့်ဆိုလော့။-
၃ ယဇ်ပုရောဟိတ် ဧလာဇာ၌ အပ်၍ တပ်ပြင်သို့ ဆောင်သွားပြီးမှ၊ သူ့ရှေ့၌ အခြားသူ သတ်ရ
၄ မည်။- ယဇ်ပုရောဟိတ် ဧလာဇာသည် အသွေးကို လက်နှင့် ယူ၍၊ ပရိသတ် စည်းဝေးရာ တဲ
၅ တော်ရှေ့ရှုး၌ ခုနစ်ကြိမ် ဖြန်းရမည်။- ယဇ်ပုရောဟိတ်ရှေ့မှာ ထိုနွားမ၏ အရေ၊ အသား၊ အသွေး၊ ချေးနှင့်တကွ တကောင်လုံးကို အခြား
၆ သူသည် မီးရှို့ရမည်။- ယဇ်ပုရောဟိတ်သည် ထင်းအကာရှသစ်သား၊ ဟုဿုပ်ပင်ညွန့်နှင့် နီမောင်းသော အထည်ကိုယူ၍၊ နွားမ မီးလောင်
၇ ရာထဲသို့ ပစ်ချရမည်။- ထိုနောက်၊ မိမိအဝတ်ကို လျှော်၍ ကိုယ်ကို ထည်းရေချိုးပြီးမှ၊ တပ်ထဲသို့ဝင်၍ ညဦးတိုင်အောင် မစင်ကြယ် ဖြစ်လိမ့်
၈ မည်။- မီးရှို့သော သူသည်လည်း၊ မိမိအဝတ်ကိုလျှော်၍ ကိုယ်ကိုလည်း ရေချိုးပြီးမှ၊ ညဦး
၉ တိုင်အောင် မစင်ကြယ် ဖြစ်လိမ့်မည်။ စင်ကြယ်သော သူတစုံတယောက်သည် နွားမ၏ ပြာကို စုသိမ်း၍၊ တပ်ပြင်မှာ စင်ကြယ်သော အရပ်၌ ထားရမည်။ ဣသရေလ အမျိုး ပရိသတ်အဖို့၊ စင်ကြယ်စေသော ရေလော်ဘို့၊ ထိုပြာကို သိုထားရမည်။ အပြစ်နှင့်ကင်းစင်စေစရာ ဘို့ဖြစ်သ
၁၀ တည်း။- နွားမ၏ ပြာကို စုသိမ်းသော သူသည်လည်း၊ မိမိအဝတ်ကို လျှော်၍ ညဦးတိုင်အောင် မစင်ကြယ် ဖြစ်လိမ့်မည်။ ဤနည်းကား၊ ဣသရေလ အမျိုးသား၊ တည်းခိုသော တပါးအမျိုးသားတို့သည် အစဉ်အမြဲ စောင့်ရသော ပညတ်ဖြစ်သတည်း။

၁၁ လူသေကောင်ကို ထိသော သူသည် ခုနစ်ရက်
၁၂ မစင်ကြယ် ဖြစ်လိမ့်မည်။- သုံးရက် မြောက်သောနေ့၌ ထိုပြာနှင့် ကိုယ်ကို သန့်ရှင်းစေ၍၊ ခုနစ်ရက်မြောက်သောနေ့၌ စင်ကြယ် လိမ့်မည်။ သုံးရက်မြောက်သောနေ့၌ ကိုယ်ကို မသန့်ရှင်းစေလျှင်၊ ခုနစ်ရက်မြောက်သောနေ့ တိုင်အောင်
၁၃ မစင်ကြယ်ရ။- လူသေကောင်ကို ထိ၍ ကိုယ်ကို မသန့်ရှင်းစေသော သူသည်၊ ထာဝရဘုရား၏ တဲတော်ကို ညစ်ညူးစေ၏။ ထိုသူကို ဣသရေလ အမျိုးမှ ပယ်ရှင်းရမည်။ စင်ကြယ်စေသော ရေဖြန်းခြင်းကို မခံသော ကြောင့် မစင်ကြယ် ဖြစ်၏။ စင်
၁၄ ကြယ်ခြင်းသို့ မရောက်သေး။- တဲ၌ လူသေလျှင်၊ စောင့်ရသော တရားဟူမူကား၊ တဲသို့ ဝင်သော သူ၊ တဲ၌ရှိနေသော သူ အပေါင်းတို့သည် ခုနစ်
၁၅ ရက်ပတ်လုံး မစင်ကြယ် ဖြစ်ကြလိမ့်မည်။- မစို့ဘဲ ဖွင့်ထားသော အိုးခွက်ရှိသမျှတို့သည်လည်း၊ မ
၁၆ စင်ကြယ် ဖြစ်ကြလိမ့်မည်။- သတ်၍သေသော သူ၊ နာ၍သေသော သူ၊ လူသေ အရိုး၊ လူသင်းချိုင်းကို တယ်ပြင်၌ တွေ့၍ ထိလျှင်၊ ခုနစ်ရက်
၁၇ ပတ်လုံး မစင်ကြယ် ဖြစ်လိမ့်မည်။- မစင်ကြယ်သော သူ့ဘို့၊ အပြစ်ကင်းစင်စေရာ မီးရှို့သော နွားမ၏ ပြာ အနည်းငယ်ကို ယူ၍၊ စီးသော ရေနှင့် အတူ
၁၈ ဖိုး၌ ထည့်ပြီးမှ၊- စင်ကြယ်သော သူသည်၊ ဟုဿုပ်ပင်ညွန့်ကို ရေ၌နှစ်၍ တဲပေါ်မှာ၎င်း၊ တန်ဆာများ၊ တဲ၌ရှိသော လူများပေါ်မှာ၎င်း၊ လူသေ အရိုး၊ သတ်၍ သေသော သူ၊ နာ၍သေသော သူ၊ လူသင်းချိုင်းကို ထိသော သူ ပေါ်မှာ
၁၉ ၎င်း၊ ထိုရေကို ဖြန်းရမည်။- စင်ကြယ်သော သူသည် မစင်ကြယ်သော သူကို သုံးရက်မြောက်သောနေ့၊ ခုနစ်ရက် မြောက်သောနေ့၌ ဖြန်းရမည်။ ခုနစ်ရက်မြောက်သောနေ့၌ ကိုယ်ကို သန့်ရှင်းစေလျှက်၊ မိမိအဝတ်ကို လျှော်၍ ရေချိုး
၂၀ လျှင်၊ ညဦးအချိန်တွင် စင်ကြယ်လိမ့်မည်။- မစင်ကြယ်သော သူသည် ကိုယ်ကို သန့်ရှင်းစေခြင်း ငှါ မပြုလျှင်၊ ထာဝရဘုရား၏ သန့်ရှင်းရာဌာနတော်ကို ညစ်ညူးစေသော ကြောင့်၊ ပရိသတ်မှ ပယ်ရှင်းခြင်းကို ခံရမည်။ စင်ကြယ်စေသော ရေဖြန်းခြင်းကို မခံသော ကြောင့်၊ မစင်ကြယ် ဖြ
၂၁ စ်၏။- အစဉ်အမြဲ စောင့်ရသော ပညတ်ဟူမူကား၊ စင်ကြယ်သော ရေကို ဖြန်းသော သူသည် မိမိအဝတ်ကို လျှော်ရမည်။ ထိုရေကို ထိသော သူသည်လည်း ညဦးတိုင်အောင် မစင်ကြယ် ဖြစ်လိမ့်

၂၂ မည်။- မစင်ကြယ်သောသူထိ သမျှသောအရာ
သည်လည်း၊ မစင်ကြယ်ခြစ်လိမ့်မည်။ ထိုအရာ
ကို ထိသောသူလည်း၊ ညဉ့်ဦးတိုင်အောင် မစင်
ကြယ်ခြစ်လိမ့်မည်ဟုမိန့်တော်မူ၏။

၂၀

၁ သတ္တုရာစ်လေးဆယ်၊ ပဌမလ၌ ဣသရေလ
အမျိုးသား ပရိသတ် အပေါင်း တို့သည်၊ ဇိန
တောသို့ ရောက်၍၊ ကာဒေရှအရပ်၌ နေကြ၏။
ထိုအရပ်၌မိရိအံ သေ၍၊ သင်းဂြိုဟ်လေ၏။-
၂ ပရိသတ်တို့သောက်စရာရေမရှိသောကြောင့်၊
မောရှေနှင့် အာရုန်တဖက်၌ စုဝေးကြလျှက်၊-
၃ ထာဝရဘုရားရှေ့မှာငါတို့အစ်ကိုများသေသော
၄ အခါ၊ ငါတို့လည်းမသေပါလေ။- ငါတို့နှင့်ငါတို့
တိရိစ္ဆာန်များကိုသေစေခြင်းငှါ၊ ထာဝရဘုရား
၏ ပရိသတ်ကို၊ ဤတောသို့ အဘယ်ကြောင့်
၅ ဆောင်ခဲ့သနည်း။-ငါတို့ကိုအဲဂုတ္တုပြည်မှထွက်
စေ၍၊ ဤဆိုးသော အရပ်သို့ အဘယ်ကြောင့်
ဆောင်ခဲ့သနည်း။ ဤအရပ်သည်၊ လယ်လုပ်စရာ
မကောင်း၊ သင်္ဘောသဖန်းပင်၊ စပျစ်နွယ်ပင်၊ သ
လဲပင်မိုက်စရာမကောင်း၊ သောက်စရာရေမှုမ
၆ ရှိဟုမောရှေကိုအပြစ်တင်၍ဆိုကြ၏။- မောရှေ
နှင့် အာရုန်တို့သည် လူအစုအဝေးမှ ထွက်၍၊
ပရိ သတ်စည်းဝေးရာတဲတော်တံခါးဝသို့သွား
သ၍ပြပ်ဝပ်လျှက်နေကြစဉ်၊ ထာဝရဘုရား၏
၇ ဘုန်းတော်သဉ်ထင်ရှားလေ၏။-ထာဝရဘုရား
၈ ကလည်း၊ လှံတံတော်ကိုကိုင်ယူ၍၊ သင်၏အစ်
ကိုအာရုန်ပါလျှက်၊ ပရိသတ်များကိုစုဝေးစေ
သော့၊ သူတို့ရှေ့မှာ ကျောက်ကို မှာထား လော့။
ကျောက်သည် မိမိရေကို ပေး လိမ့်မည်။ ထိုသို့
သင်သည် ကျောက် ထဲ က ရေကို ထွက် စေ၍၊
ပရိသတ်များနှင့် သူတို့တိရိစ္ဆာန် များတို့အား
၉ သောက်ဖို့ ရေကိုပေးရမည်ဟု၊- မောရှေအား
မိန့်တော် မူသည်အတိုင်း၊ မောရှေသည် လှံတံ
၁၀ တော်ကိုထာဝရဘုရားရှေ့တော်ကယူ၍၊- အာ
ရုန်ပါလျှက်၊ ပရိသတ်တို့ကိုကျောက်ရှေ့မှာစု
ဝေးစေပြီးလျှင်၊ အချင်းသူပုန်တို့၊ နားထောင်ကြ
လော့။ ငါတို့သည် သင်တို့အဖို့ ကျောက်ထဲက
၁၁ ရေကို ထွက်စေရမည်လောဟုဆိုလျှက်၊- မိမိ
လက်ကိုဆန့်၍၊ ကျောက်ကိုလှံတံနှင့် နှစ်ကြိမ်
ခိုက် သ ဖြင့် ရေ သည် များ စွာ ထွက် ၍၊ လူ
ပရိသတ်တို့နှင့်တိရိစ္ဆာန်တို့သည် သောက်ရ
ကြ၏။
၁၂ ထာဝရဘုရားကလည်း၊ သင်တို့သည်ငါ့ကိုစ
ယုံကြည်၊ ဣသရေလအမျိုးသားတို့ရှေ့မှာငါ့ကို
မရိုမသေပြုသောကြောင့်၊ ဤပရိသတ်တို့အား
ငါ ပေးသော ပြည်သို့၊ သင်တို့ သည် ပို့ဆောင်
သောအခွင့်ကိုမရကြဟု၊ မောရှေနှင့်အာရုန်တို့
၁၃ အားမိန့်တော်မူ၏။- ဣသရေလ အမျိုးသားတို့
သည်ထာဝရဘုရားကို ဆန့်ကျင်ဘက် ပြုသော်
လည်း၊ သူတို့တွင် ရိုသေ လေးမြတ် ခြင်းကို ခံ
တော်မူသောကြောင့်၊ ထိုရေသည် မေရိဗရေ
ခြင်သတည်း။
၁၄ မောရှေသည်၊ ကာဒေရှအရပ်မှဧဒုံရှင်ဘုရင်
ထံသို့သံတမန်တို့ကိုစေလွှတ်၍၊ ကိုယ်တော်ညီ
ဣသရေလက၊ အကျွန်ုပ်တို့တွေ့ရသော အမှုအ
၁၅ လုံးစုံ တည်း ဟူသော၊- အကျွန်ုပ်တို့ ဘိုးဘေး
သည် အဲဂုတ္တု ပြည်သို့ သွား၍၊ အကျွန်ုပ်တို့
သည်အဲဂုတ္တုပြည်မှာ ကာလကြာမြင့်စွာနေသ
ဖြင့်၊ အဲဂုတ္တုလူတို့သည် အကျွန်ုပ်တို့ နှင့် ဘိုး
၁၆ ဘေးများကို ညှဉ်းဆဲကြောင်း၊- အကျွန်ုပ်တို့
သည် ထာဝရဘုရားကို အော်ဟစ်သော အခါ၊
ကောင်းကင် တမန်ကိုစေလွှတ်၍၊ အကျွန်ုပ်တို့
ကိုအဲဂုတ္တုပြည်မှ နှုတ်ဆောင်တော်မူကြောင်း
ကို ကိုယ်တော် သိပါ၏။ ယခုမှာ အကျွန်ုပ် တို့
သည်ကိုယ်တော်၏ နိုင်ငံအစွန်အနား၊ ကာဒေရှ
၁၇ အရပ်၌ရှိကြပါ၏။- ကိုယ်တော်ပြည် အလယ်
၌ရှောက်၍ သွားပါရစေ။ ထယ်ယာများ၊ စပျစ်
ဥယျာဉ် များကို မနင်းပါ။ တွင်းရေကို လည်းမ
သောက်ပါ။ ကိုယ်တော် ပြည်နယ်ကို မလွန်မှီ
တိုင်အောင်၊ လက်ျာဘက်၊ လက်ဝဲ ဘက်သို့မ
တွေ့၊ မင်းလမ်းသို့သာ ရှောက်လိုက် ပါမည်ဟု
၁၈ တောင်းပန်စေ၏။- ဧဒုံကလည်း၊ သင်သည် ငါ
ပြည်အလယ်၌မရှောက်မသွားရ၊ ရှောက် သွား
လျှင်၊ ထားထက်နက်နှင့် ဆီးတားမည်ဟုပြန်
၁၉ ပြော၏။- ဣသရေလ အမျိုး သားတို့ကလည်း၊
မင်းလမ်းသို့ သာရှောက် လိုက်ပါမည်။ ကိုယ်
တိုင်မှစ၍တိရိစ္ဆာန်တို့သည် ကိုယ်တော်ရေကို
သောက်လျှင်၊ အဖိုးကိုပေးပါမည်။ အခြားသော
အမှုကိုမပြုဘဲ၊ ခြေဖြင့်သွားရုံမျှသာပြုပါမည်
၂၀ ဟုဆိုသော်လည်း၊- ဧဒုံက၊ သင်သည် ရှောက်
၍မသွားရဟုဆိုလျှက်၊ များစွာသော ဗိုလ်ခြေ
အလုံးအရင်းနှင့်တကွ၊ ဆီးတားခြင်းငှါထွက်
၂၁ လာ၏။- ထိုသို့ဧဒုံသည်၊ သူ၏ပြည်အလယ်၌
ရှောက်သွားသော အခွင့်ကို၊ ဣသရေလအားမ

ပေးသောကြောင့်၊ ဣသရေလ ထံထည် ဖဲ့ရှောင် သွား၏။

၂၂ ဣသရေလအမျိုးသားပရိသတ်အပေါင်းတို့
သည် ကာဒေရှအရပ်မှပြောင်း၍၊ ဟောရတောင်
၂၃ သို့ ရောက်ကြ၏။- ဧဒုံ ပြည် စွန် နား ဟောရ
တောင်ပေါ်မှာထာဝရဘုရားသည်၊မောရှေနှင့်
၂၄ အာရုန်တို့ကိုခေါ်၍၊- သင်တို့သည်၊ မေရိဘစမ်း
ရေနားမှာ ငါ့စကားကိုဆန့်ကျင်သောကြောင့်၊ ဣ
သရေလအမျိုးသားတို့အား ငါပေးသောပြည်
သို့အာရုန်သည်မဝင်ရ၊ မိမိလူမျိုးစည်းဝေးရာ
၂၅ သို့သွားရမည်၊- သို့ဖြစ်၍၊အာရုန်နှင့်သူ၏သား
ဧလာဇာကို ခေါ်၍၊ ဟောရ တောင် ပေါ်သို့
၂၆ ဆောင်သွားပြီးလျှင်၊-အာရုန်၏အဝတ်ကိုချွတ်
၍၊ သူ၏သားဧလာဇာကိုဝတ်စေပြီးမှ၊အာရုန်
သည် ထိုအရပ်၌သေ၍ မိမိလူမျိုးစည်းဝေးရာ
၂၇ သို့သွားရမည်ဟု- မိန့်တော်မူသည် အတိုင်း၊
မောရှေပြု၍၊ သူတို့သည်ပရိသတ်အပေါင်းတို့
၂၈ ရှေ့မှာဟောရတောင်ပေါ်သို့တက်ကြ၏၊-မော
ရှေသည်အာရုန်၏ အဝတ်ကို ချွတ်၍၊ သားဧ
လာဇာကိုဝတ်စေပြီးမှ၊ အာရုန်သည် တောင်
ထိပ်၌သေလေ၏၊ မောရှေနှင့်ဧလာဇာတို့သည်၊
၂၉ တောင်ပေါ်ကဆင်းသက်ကြ၏၊- အာရုန်သည်
အနိစ္စရောက်ကြောင်းကို၊ ပရိသတ်အပေါင်း
တို့သည် သိမြင်သောအခါ၊ ဣသရေလ အမျိုး
သား၌သမျှ တို့သည်၊ အာရုန်အတွက် အရက်
သုံးဆယ်ပတ်လုံး ငိုကြွေး မြည်တမ်းခြင်းကိုပြု
ကြ၏။

၂၁

၁ ဣသရေလ အမျိုးသည် အထရိမ် လမ်းဖြင့်
လာကြသည် သိတင်းကို၊ တောင်မျက်နှာ၌နေ
သောခါနာန်အမျိုး၊ အာရဒ်မင်းကြီးကြားလျှင်
ဣသရေလအမျိုးကိုစစ်တိုက်၍၊ လူအချို့တို့ကို
၂ ဖမ်းဆီးသိမ်းသွားလေ၏၊-ဣသရေလအမျိုးက
လည်း၊ ကိုယ်တော်သည် ဤလူမျိုးကိုအကျွန်ုပ်
တို့လက်သို့အပ်တော်မူလျှင်၊ သူတို့မြို့များကိုရှင်း
ရှင်း ဖျက်ဆီးပါမည်ဟု၊ ထာဝရ ဘုရား အား
၃ သစ္စာဂတိပြုလေ၏၊-ထာဝရဘုရားသည်လည်း
ဣသရေလအမျိုး၏စကားကိုနားထောင်၍၊ ထို
ခါနာန်အမျိုးသားတို့ကိုအပ်တော်မူ၏၊သူတို့နှင့်
သူတို့မြို့များကို ဣသရေလလူတို့သည်ရှင်းရှင်း
ဖျက်ဆီး၍၊ ထိုအရပ်ကို ဟော်မာ အမည်ဖြင့်
သမုတ်ကြ၏။

၄ ဟောရ တောင်မှ ထွက်၍၊ ဧဒုံ ပြည်ကို ပိုင်း
ခြင်းငှါ၊ ဧဒုံပင်လယ်ထမ်းဖြင့်ရှောင်သွားကြစဉ်၊
အသွားခရီးကြောင့်၊လူများတို့သည်စိတ်
၅ အားလျော့ကြ၍၊- သင်သည်ငါတို့ကိုဤတော၌
သေစေခြင်းငှါ၊ အဲဂုတ္တုပြည်မှအဘယ်ကြောင့်
ဆောင်ခဲ့သနည်း၊ မုန့်မရှိ၊ရေလည်းမရှိ၊ ဤပေါ့
ပျက်သောစားစရာကိုလည်းငါတို့သည်းအလွန်
၆ ရွံရှာ၏ဟု၊ဘုရားသခင်နှင့်မောရှေကိုဆန့်ကျင်
ဘက်ပြု၍ ဆိုကြ၏၊- ထိုအခါ ထာဝရ ဘုရား
သည်၊ဣသရေလအမျိုးသားတို့တွင်မီးမြွေများ
ကိုစေလွှတ်တော်မူ၍၊လူအများတို့သည်အကိုက်
၇ ခံရ၍သေကြ၏၊- ထို့ကြောင့်၊ လူများ တို့
သည် မောရှေထံသို့ လာ၍၊ အကျွန်ုပ်တို့သည်
ထာဝရဘုရားနှင့်ကိုယ်တော်ကိုဆန့်ကျင်လျှက်
ပြောဆို၍ ပြစ်မှားပါပြီ၊ ထာဝရဘုရားသည်
မြွေများကို အကျွန်ုပ်တို့မှ ပယ်ရှားတော်မူမည်
အကြောင်း ဆုတောင်းပါဟု လျှောက် လျှင်၊
မောရှေသည် လူများအဖို့ ဆုတောင်း၏၊-
၈ ထာဝရဘုရားကလည်း၊ မီးမြွေရုပ်ကို လုပ်၍၊
တိုင်ပေါ်မှာ မြှောက် ထားလော့၊ အကိုက်ခံရ
သောသူတိုင်းကြည့်ရှုလျှင်၊ အသက်ချမ်းသာရ
၉ လိမ့်မည်ဟု၊ မောရှေအား မိန့်တော် မူသည်အ
တိုင်း၊-မောရှေသည်ကြေးဝါဖြင့်မြွေကိုလုပ်၍၊
တိုင်ပေါ်မှာ မြှောက် ထား ပြီးလျှင်၊ မြွေ ကိုက်
သောလူမည်သည်ကား၊ ကြေးဝါမြွေကိုကြည့်
ရှုသောအခါ၊ အသက်ချမ်းသာရကြ၏။
၁၀ တဖန် ဣသရေလ အမျိုးသားတို့သည် ဧရာ
၁၁ ပြောင်း၍၊ဩဗုတ်အရပ်၌စားခန်းချကြ၏၊ ဩ
ဗုတ်အရပ်မှ ပြောင်းပြန်၍၊ နေထွက်ရာ ထက်၊
မောဘပြည်ရှေ့တွင်ရှိသောတောမှာ၊ ဣယေဗာ
၁၂ ရိမ်အရပ်၌စားခန်းချကြ၏၊-ထိုအရပ်မှပြောင်း
၁၃ ၍၊ဇာရက်ချောင်းနား၌စားခန်းချကြ၏၊-ထိုအ
ရပ်မှတဖန် ပြောင်းပြန်၍၊ အာမောရိပြည်နယ်
နှင့်စပ်သောတော၌ ရှိသော အာနုန်ချောင်းနား
တဘက်တချက်၌စားခန်းချကြ၏၊အာနုန်ချောင်း
ကား၊မောဘပြည်၊ အာမောရိပြည် စပ်ကြားအ
၁၄ ပိုင်းအခြားဖြစ်သတည်း၊- ထိုသို့နှင့်အညီ၊ထာ
ဝရဘုရား စစ်တိုက်စာ၌ကား၊ ဓာရက်အရပ်၊
၁၅ သုဖအရပ်၊ အာနုန်ချောင်းတို့၊- အာရပြည်သို့
စီး၍ မောဘ ပြည် အနား၌ ရှောက်သွား သော
၁၆ ချောင်း၊ အလွယ် တွယ် ထုလာသတည်း၊- အာ
နုန်ချောင်းမှဗေရရေတွင်းသို့ခရီးသွားကြ၏၊ထို

ရေတွင်းကား၊ အခြားမယုတ်၊ ထာဝရဘုရား
က၊ လူများကိုစုဝေးစေလော့၊ ရေကိုငါပေးမည်
ဟု မောရှေအား မိန့်တော်မူရာ၌ရည်ခေါ်သော
၁၇ ရေတွင်းဖြစ်သတည်း။- ထိုအခါဣသရေလအ
မျိုးက၊ ထိုတွင်းရေ၊ ထွက်လော့၊ ထွက်အောင်
၁၈ သီချင်းဆိုကြလော့။- တရားမင်းမိရင်သည်အ
ထိုင်း၊ မှူးမတ်တို့သည်ရေတွင်းကို တူးကြပြီ။ လူ
ထို့တွင်အကဲအမှူးတို့သည်၊ တောင်ဝှေးတို့နှင့်
၁၉ ရေတွင်းကို တူးကြပြီဟု သီချင်းဆိုလေ၏။- ထို
တောမှ မဿနာ အရပ်သို့၎င်း၊ မဿနာ အရပ်မှ
နထာလျေလ အရပ်သို့၎င်း၊ နထာလျေလအရပ်
၂၀ မှ ဗာမုတ် အရပ် သို့၎င်း၊- ဗာမုတ်အရပ်မှ မော
ထမြို့နှင့်သို့၎င်း၊ ယေရှိမုန်မြို့ကိုမျက်နှာပြုသော ပိ
သဂါတောင်ထိပ်သို့၎င်း ခရီးသွားကြ၏။
၂၁ ထိုအခါ ဣသရေလအမျိုးသားတို့သည်၊ အာ
မောရိရှင်ဘုရင်ရှိဟုန်မင်းထံသို့ သံတမန်တို့ကို
၂၂ စေလွှတ်လျက်၊- အကျွန်ုပ် တို့သည် မင်းကြီး
ပြည်အထဲ၌ရှောက်၍ သွားပါရစေ။ လယ်ယာ
သို့၎င်း၊ စပျစ်ဥယျာဉ်သို့၎င်း မဝင်ပါ။ တွင်းရေကို
လည်း မသောက်ပါ။ မင်းကြီး၊ ပြည်ကို မလွန်မှီ
တိုင်အောင်၊ မင်းလမ်းသို့သာ ရှောက်လိုက်ပါ
၂၃ မည်ဟု အခွင့်တောင်းကြ၏။- ထိုပြည်အထဲ
၌ ရှောက် သွား ရသော အခွင့် ကို၊ ရှိဟုန်မင်း
သည် ဣသရေလအမျိုးသားတို့အား မပေး။ မိမိ
လူအပေါင်းတို့ကိုစုဝေးစေ၍၊ ဣသရေလအမျိုး
သားတို့ကို ဆီးတားခြင်းငှါ၊ သူတို့ရှိရာတောသို့
ထွက်၍ ယာဟတ် မြို့သို့ ရောက် ပြီးလျှင်၊ စစ်
၂၄ တိုက် လေ၏။- ထိုမင်းကို၊ ဣသရေလ အမျိုး
သား တို့ သည်၊ ထား နှင့် လုပ် ကြ၍၊ အာ နုန်
ချောင်းမှသည်၊ ယဗ္ဗုတ်ချောင်းတိုင်အောင်၎င်း၊
အမ္မုန်အမျိုးသားနေရာတိုင်အောင်၎င်း၊ ထိုမင်း
ပိုင်သော မြေကို သိမ်းယူ ကြ၏။ အမ္မုန်အမျိုး
၂၅ သားနေရာနယ်ပယ်ကား၊ အားကြီး၏။- ထိုသို့ဣ
သရေလအမျိုးသားတို့သည်၊ ဟေရှဘုန် မြို့မှစ
၍၊ အာမောရိအမျိုးသားနေသောမြို့ရွာရှိသမျှ
၂၆ တို့ကိုသိမ်းယူ၍နေကြ၏။- ဟေရှဘုန်မြို့ကား
မောဘပြည်ကို အစိုးရသော အရင်ရှင်ဘုရင်
နှင့်စစ်တိုက်၍၊ အာနုန်ချောင်းတိုင်အောင်ပြည်
ကိုလုယူသော၊ အာမောရိရှင်ဘုရင် ရှိဟုန်မင်း
၂၇ နေသော မြို့ဖြစ် သတည်း။- ထိုအကြောင်းကို
ရည်စောင်း၍လင်္ကာစပ်ဆိုကား၊ ဟေရှဘုန်မြို့သို့
သွား၍တဖန်တည်ကြစို့။ ရှိဟုန်ဘုရင်နေသော
၂၈ မြို့ကိုပြုပြင်ဆင်ကြစို့။- ရှိဟုန်ဘုရင် နေရာဟေရှ
ဘုန်မြို့မှ မီးလျှံထွက်၍၊ မောဘပြည်အာရမြို့နှင့်
တကွ၊ အာနုန်ချောင်းနား၊ မြင့်သောအရပ်၌အ
၂၉ စိုးရသောမင်းတို့ကိုလောင်လေပြီ။- ဟိုမောဘ
ပြည်၊ သင်သည်အမင်္ဂလာရှိ၏။ ခေမုရှဘုရား၏
လူ၊ သင်တို့သည် အကျိုးနည်းကြပြီ။ ပြေးရသော
မိမိသားသမီးတို့ကို၊ အာမောရိရှင်ဘုရင် ရှိဟုန်
လက်သို့ ရောက်စေခြင်းငှါ၊ ထိုဘုရားသည်အ
၃၀ ခွင့်ပေးပြီတကား။- တဖန်ငါတို့သည် အာမော
ရိသား၊ ထိုသူကို တိုက်ပြန် သောကြောင့်၊ ဟေရှ
ဘုန်ပြည်သည်၊ ဒိဘုန်မြို့တိုင်အောင်ပျက်လေ
ပြီ။ မေဒဘ မြို့နှင့် နီး စပ် သော နောဖာ မြို့ တိုင်
အောင်၊ သူတို့ကိုလုပ်သင်ပယ်ရှင်းကြပြီဟု ဆို
၃၁ သတည်း။- ထိုသို့ ဣသရေလ အမျိုး သားတို့
၃၂ သည်၊ အာမောရိပြည်၌ နေရကြ၏။- မောရှေ
သည်လည်း၊ ယာဇာမြို့ကို စူးစမ်းခြင်းငှါ လူ
ကို စေလွှတ်ပြီးလျှင်၊ ထိုမြို့ရွာတို့ကိုသိမ်းယူ၍၊
အရင်နေသော အာမောရိ အမျိုးသားတို့ကိုနှင်
ထုတ်ကြ၏။
၃၃ တဖန်ဣသရေလ အမျိုးသားတို့သည် လှည့်
၍၊ ဗာရှန်ပြည်သို့ ခရီးသွားကြ၏။ ဗာရှန်ရှင်
ဘုရင် ဩဃသည်၊ မိမိလူအပေါင်းတို့နှင့်၊ ဧဒြေ
၃၄ အရပ်မှာ စစ်တိုက်ခြင်းငှါ ရှိသွား၏။- ထာဝရ
ဘုရားကလည်း၊ သူကိုမကြောက်နှင့်။ သူနှင့်အ
ကွသူ၏လူအပေါင်းကို၎င်း၊ သူ၏မြေကို၎င်း၊ သင့်
လက်၌ ငါအပ်ပေးပြီ။ ဟေရှဘုန် မြို့နေ၊ အာ
မောရိရှင်ဘုရင်ရှိဟုန်ကို ပြုသကဲ့သို့၊ ဤမင်းကို
လည်း ပြုရမည်ဟု၊ မောရှေအား မိန့်တော် မူ
၃၅ သည်အတိုင်း၊- ထိုမင်းနှင့် သားများ၊ လူများ
အပေါင်းတို့ကို၊ တယောက်မျှမကြွင်း။ လုပ်ကြ
၍သူ၏ပြည်ကိုသိမ်းယူကြ၏။

၂၂

၁ တဖန် ဣသရေလ အမျိုးသား တို့သည် ခရီး
သွား၍၊ မောဘလွင်ပြင်၊ ယော်ဒန်မြစ်နား၊ ယေ
၂ ရိခေါမြို့တဘက်၌တဲဆောက်ကြ၏။- အာမောရိ
အမျိုးသားတို့၌ ပြုကြသော အမှုအလုံးစုံကို၊ ဇိ
၃ ပေါ်သား၊ ဗာလက်မင်း သိမြင်လျှင်၊- ဣသရေ
လအမျိုးသားတို့သည် များပြားသောကြောင့်၊
မောဘပြည်သားတို့သည် အလွန်ကြောက်ရွံ့ကြ
၄ ၍၊- နွားသည်မြက်ပင်ကိုလျှမ်း၍စားသကဲ့သို့
ဤအလုံး အရင်းသည် ငါတို့ပတ်လည်၌ ရှိသမျှ
ကိုလျှမ်း၍ စားလိမ့်မည်ဟု၊ ပုပ္ပန်သောမိဒျန်မြို့

လျက်၊ မိဒျန်ပြည်သား အသက်ကြီးသူတို့အား ဆိုကြ၏။ ထိုအခါ ဇိပေါ်သား ဗာလက်သည်
၅ မောဘရှင်ဘုရင်ဖြစ်သည်နှင့်၊- ဇေဘူနိပြည်၌ ဝါးသောမြစ်၏ အနားမှာရှိသော၊ ပေသော်မြို့နေ ဗေဩရသား ဗာလမ်ကိုခေါ်ပင့်ခြင်းငှါ၊ သံတမန်တို့ကို စေလွှတ်၍၊ အဲဂုတ္တုပြည်မှ ရောက်လာသော လူတမျိုးသည်၊ မြေမျက်နှာကို ဖုံးလွှမ်း
၆ လျက် ငါ့အနားခြံနေရာကျကြပြီ။ သို့ဖြစ်၍ ကြွလာပါ။ ဤလူမျိုးသည် ငါ့ထက် အားကြီးသောကြောင့်၊ သူတို့ကို ငါ့အဘို့ကျိန်ဆဲပါ။ သို့ပြုလျှင်၊ သူတို့ကို ငါတိုက်၍ ငါ့ပြည်မှ နှင်ထုတ်နိုင်ကောင်း နှင်ထုတ်နိုင်လိမ့်မည်။ ကိုယ်တော် ကောင်းကြီးပေးသော သူသည်၊ ကောင်းကြီးမင်္ဂလာ ခံရသည်ကိုရင်၊ ကိုယ်တော် ကျိန်ဆဲသောသူသည်၊ ကျိန်ဆဲအပ်သော သူဖြစ်သည်
၇ ကိုရင်ငါသိသည်ဟု မှာလိုက်လေ၏။- မောဘပြည်သားအသက်ကြီးသူတို့နှင့် မိဒျန်ပြည်သားအသက်ကြီးသူတို့သည်၊ ပေးစားခြင်းလက်ဆောင်ပါလျက် သွား၍၊ ဗာလမ်ထံသို့ရောက်သောအခါ၊ ဗာလက်မင်း၏စကားကို ကြားလျှောက်လေ
၈ ၏။- ဗာလမ်က၊ ယနေ့ညမှာ ဤအရပ်၌ နေကြပါဦး။ ထာဝရဘုရား မိန့်တော်မူသည်အတိုင်း ငါပြန်ပြောမည်ဟု ဆိုလျှင်၊ မောဘအရာရှိတို့
၉ သည်ဗာလမ်ထံမှာနေကြ၏။-ဘုရားသခင်သည် ဗာလမ်ရှိရာသို့ လာ၍၊ သင်၌ရှိသော ဤလူတို့
၁၀ သည်အဘယ်သူနည်းဟု မေးတော်မူလျှင်၊-ဗာလမ်က၊ မောဘရှင်ဘုရင်ဇိပေါ်သားဗာလက်
၁၁ သည်အကျွန်ုပ်ထံသို့လူကိုစေလွှတ်၍၊-အဲဂုတ္တုပြည်မှ ရောက်လာ သော လူ အများသည်၊ မြေမျက်နှာကို ဖုံးလွှမ်းလျက် နေကြပြီ၊ သို့ဖြစ်၍ ကြွလာပါ။ ဤလူမျိုးကို ငါ့အဘို့ ကျိန်ဆဲပါ။ သို့ပြုလျှင်၊ သူတို့ကို ငါတိုက်၍ နှင်ထုတ်နိုင်ကောင်း နှင်ထုတ် နိုင်လိမ့်မည်ဟု ခေါ်ပင့် ကြောင်းကို၊
၁၂ ဘုရားသခင်အားလျှောက်ဆို၏။- ဘုရားသခင်ကလည်း၊ သင်သည်ဤလူတို့နှင့်အတူမလိုက်မသွားရ၊ ထိုလူမျိုးကို မကျိန်ဆဲရ၊ ကောင်းကြီးမင်္ဂလာကိုခံရသောလူမျိုးဖြစ်သည်ဟု၊ ဗာလမ်
၁၃ အား မိန့်တော်မူ၏။- နံနက် ရောက်မှ၊ ဗာလမ်သည်ထ၍ သင်တို့သည်ကိုယ်ပြည်သို့ပြန်သွားကြပါလော့။ သင်တို့နှင့် အတူ ငါလိုက်ရသောအခွင့်ကို၊ ထာဝရဘုရားပေးတော်မမူဟု၊ ဗာလက်မင်းစေလွှတ်သော အရာရှိတို့အား ပြန်ပြောသော
၁၄ ၏။-ထိုအခါမောဘမှူးအရာရှိတို့ထ၍ဗာလက်မင်းထံသို့ပြန်သွား၍၊ ဗာလမ်သည်ကျွန်တော်တို့နှင့်အတူမလိုက်လိုပါဟုလျှောက်ကြ၏။
၁၅ တဖန်ဗာလက်မင်းသည်၊ အရင်ထက်အရေအတွက် အားဖြင့် များ၍၊ အရာအားဖြင့် ဘုန်းကြီးသော မှူးမတ်တို့ကို စေလွှတ် ပြန်သည်အ
၁၆ တိုင်း၊- သူတို့သည်ဗာလမ်ထံသို့ရောက်လာ၍ ဇိပေါ်သား ဗာလက်မင်းက၊ ကိုယ်တော်သည် ငါ့ထံသို့မလာမည်အကြောင်း၊ အဘယ်အဆီးအ
၁၇ တားမျှမရှိပါစေနှင့်။- ငါသည်ကိုယ်တော်ကို အလွန် ရိုမြှောက်မည်။ ကိုယ်တော်တောင်းသောအရာကိုပေးမည်။ သို့ဖြစ်၍ ကြွလာပါ။ ဤလူမျိုးကို ငါ့အဘို့ကျိန်ဆဲပါဟု မိန့်တော်မူကြောင်းကို ပြန်
၁၈ ပြောကြ၏။- ဗာလမ်ကလည်း၊ ဗာလက် မင်းသည်၊ ရွှေငွေနှင့်ပြည့်သောမိမိနန်းတော်ကိုပင် ပေးသော်လည်း၊ ငါကိုးကွယ်သောဘုရားသခင် ထာဝရ ဘုရား၏ စကားတော်ကို လွန်ကျူး၍၊ အမှုကြီးအငယ် တစုံတခုကိုမျှ ငါမပြုနိုင်။-
၁၉ သို့ရာတွင်၊ ထာဝရဘုရားသည် အဘယ်သို့ထပ်၍ မိန့်တော်မူမည်ကို ငါသိမည်အကြောင်း၊ ယနေ့ညမှာ ဤအရပ်၌နေကြပါဦးဟု၊ ဗာလက်မင်း
၂၀ လွန်တို့အား ပြန်ပြော၏။- ညအချိန်၌ ဘုရားသခင်သည် ဗာလမ် ရှိရာသို့ လာ၍၊ ထိုလူတို့သည်သင့်ကိုခေါ်ခြင်းငှါလာလျှင်၊ သူတို့နှင့်အတူထ၍ လိုက်လော့။ သို့ရာတွင်၊ ငါမှာထားသော
၂၁ မှုအတိုင်းသာပြုရမည်ဟုမိန့်တော်မူ၏။-နံနက်ရောက်မှ၊ ဗာလမ်ထ၍ မြည်းကို ကုန်းနှီး တင်ပြီးလျှင်၊ မောဘအရာရှိတို့နှင့်အတူလိုက်လေ၏။-
၂၂ ထိုသို့လိုက်သောကြောင့်၊ ဘုရားသခင်အမျက်တော်ထွက်၍၊ ထာဝရဘုရား၏ကောင်းကင်တမန်သည် သူကို ဆီးတားခြင်းငှါ၊ လမ်း၌ရပ်နေ၏။ ထိုအခါဗာလမ်သည်မြည်းကိုစီး၍၊ ငယ်သား
၂၃ နှစ်ယောက်နှင့်သွားစဉ်တွင်၊- ထာဝရဘုရား၏ကောင်းကင်တမန် သည် ဓား ကို ကိုင်လျက်၊ လမ်း၌ရပ်နေသည်ကိုမြည်းသည်မြင်လျှင်၊ လမ်းလွှဲ၍လယ်သို့ ဝင်လေ၏။ ဗာလမ်သည်။ မြည်းကို
၂၄ လမ်းသို့ ပြန်စေခြင်းငှါ ရိုက်လေ၏။- ထာဝရဘုရား၏ကောင်းကင်တမန်သည်၊ စပျစ်ဥယျာဉ်စောင့်ရန်နှစ်ဖက်စပ်ကြားလမ်း၌ထပ်၍ရပ်နေ
၂၅ ၏။- ထာဝရဘုရား၏ ကောင်းကင်တမန်ကိုမြည်းသည် မြင်ပြန်သောအခါ၊ စောင့်ရန်တံတိုင်း၌ကပ်၍၊ ဗာလမ်၏ခြေကိုညှပ်လျှင်၊ ဗာလမ်သည်၊

၂၆ ထနေမှတ်ပြန်ထေ၏၊-ထာဝရဘုရား၏ကောင်း
ကင်တမန်သည်လွန်သွား၍၊ လမ်း၊တဖက်ဖက်
မှမတွဲနိုင်အောင် ကျဉ်းမြောင်းသော အရပ်၌
၂၇ ရပ်နေ၏။- မြည်းသည် လည်း၊ ထာဝရဘုရား၏
ကောင်းကင်တမန်ကို မြင်ပြန်သောအခါ၊ ဗာ
လမ်အောက်၌ဝပ်လျက်နေ၏၊ ဗာလမ်သည်အ
မျက်ထွက်၍ တောင်ဝေးနှင့်မြည်းကိုရိုက်လေ၏။-
၂၈ ထိုအခါ ထာဝရဘုရားသည် မြည်း၏နှုတ်ကို ဖွင့်
တော်မူ၍၊ မြည်းက၊ သင်သည်ငါ့ကို သုံးကြိမ်တိုင်
အောင်ရိုက်ရမည် အကြောင်း၊ ငါသည်သင်၌
အဘယ်သို့ပြုဘိ သနည်းဟု၊ ဗာလမ်အားမေး
၂၉ လျှင်၊- ဗာလမ်က၊ သင်သည် ငါ့ကိုကဲ့ရဲ့ပါ
သည်တကား၊ ငါ၌ဓားရှိပါစေသော၊ ဓားရှိ
လျှင်၊ သင့်ကို ယခုသတ်မည်ဟု မြည်းအား ဆို၏။-
၃၀ မြည်းကလည်း၊ ငါသည် ယနေ့တိုင်အောင် သင်၏
အစီးကို အစဉ်ခံရသော၊ သင်၏ မြည်းဖြစ်သည်မ
ဟုတ်လော၊ သင်၌ တခါမျှ ဤသို့ ငါပြု ဘူးသ
လောဟု၊ ဗာလမ်အားမေးလျှင်၊ မပြုဘူးဟုပြန်
၃၁ ပြော၏။- ထိုအခါ ထာဝရဘုရားသည်ဗာလမ်
မျက်စိ ကို ဖွင့် တော်မူ၍၊ ထာဝရ ဘုရား ၏
ကောင်းကင်တမန်သည်ဓားကိုဆွဲလျက်၊ လမ်း
၌ရပ်နေသည်ကို ဗာလမ်သည်မြင်သဖြင့်ဦးချ၍
၃၂ ပြပ်ဝပ်လေ၏။-ထာဝရဘုရား၏ကောင်းကင်တ
မန်ကလည်း၊သင်၏မြည်းကိုသုံးကြိမ်တိုင်အောင်အ
ဘယ်ကြောင့်ရိုက်သနည်း။သင်သွားသောလမ်း
သည် ငါနှင့် ဆန့်ကျင်ဘက် ဖြစ်သော ကြောင့်၊
၃၃ သင့်ကို ဆီးတားခြင်းငှါ ငါထွက် လာပြီ။- မြည်း
သည်ငါ့ကိုမြင်၍ သုံးကြိမ် ရှောင်နှဲပြီ၊ ထိုသို့ မ
ရှောင်လျှင်၊ အကယ် စင်စစ် သင့်ကို ငါသတ်၍
၃၄ မြည်းကိုအသက်ချမ်းသာပေးလေပြီဟု ဆို၏။- ဗာ
လမ်က လည်း၊ အကျွန်ုပ် ပြစ်မှား ပါပြီ၊ ကိုယ်
တော်သည်လမ်း၌ ကန့်လန့်နေတော်မူသည်ကို
အကျွန်ုပ်မသိပါ၊ ယခုမှာ အလိုတော်မရှိလျှင်၊
အကျွန်ုပ်ပြန်သွားပါမည်ဟု၊ ထာဝရဘုရား၏
၃၅ ကောင်းကင်တမန်အား ဆိုလျှင်၊-ထာဝရဘုရား
၏ ကောင်းကင် တမန်က၊ သူတို့နှင့် အတူ လိုက်
လော့၊ သို့ရာတွင်၊ ငါမှာထားသောစကားကိုသာ
ပြောရမည်ဟု၊ ဗာလမ်အား မိန့်တော်မူ
သည်အတိုင်း၊ သူသည်ဗာလက်မင်း၏ကျွန်တို့
၃၆ နှင့်အတူ လိုက် သွား လေ၏။- ဗာလမ် ရောက်
သောသတင်းကိုဗာလက်မင်းကြားလျှင်၊ ခရီး
ဦးကြိုခြင်းငှါ၊ မောဘပြည်စွန်း၊ အာနုန်ချောင်း

၃၇ နားမှာ ရှိသော မြို့ကမြို့သို့ ထွက်သွား၏။- ဗာ
လက်မင်းကလည်း၊ ကိုယ်တော်ကိုခေါ်ပင့်စေ
ခြင်းငှါ၊ ငါသည် အထပ်ထပ် စေလွှတ်သည်မ
ဟုတ်လော၊ အဘယ် ကြောင့် နှေးပါ သနည်း၊
ကိုယ်တော်ကို ငါရှို့မြှောက် နိုင်သည် မဟုတ်
၃၈ သလောဟု၊ ဗာလမ်အား ဆိုလျှင်၊- ဗာလမ်က၊
မင်းကြီးထံသို့ငါလာပါပြီ၊ သို့ရာတွင်၊ငါသည်
စကားတခွန်းကိုမျှ ပြောပိုင်သလော၊ နှုတ်၌
ဘုရား သခင် ထားတော်မူသော စကားကိုသာ
၃၉ ငါပြောဝါမည်ဟုပြန်ပြောပြီးမှ၊- ဗာလက်မင်း
နှင့်အတူလိုက်၍ကိရယ်သာဇုတ်မြို့သို့ရောက်
၄၀ ကြ၏။-ဗာလက်မင်းသည်လည်း၊သိုးနွားတို့ကို
ပူဇော်၍၊ဗာလမ်နှင့်အရာရှိတို့အား ပေးလိုက်
၄၁ လေ၏။- နက်ဖန်နေ့၌ ဗာလက် မင်းသည် ဗာ
လမ်ကိုခေါ်၍၊ ဣသရေလအမျိုးသားအပေါင်း
တို့ကိုအကုန်အစင်မြင်ရခြင်းငှါ၊ ဗာလဘုရားနှင့်
ဆိုင်သောကုန်းမြင့်ပေါ်သို့ပို့ဆောင်လေ၏။

၂၃

၁ ထိုအခါ ဗာလမ်က၊ ဤအရပ်၌ ငါ့အဖို့ယဇ်
ပလ္လင် ခုနစ်ခု ကို တည် လော့၊ နွား ထီး ခုနစ်
ကောင်၊ သိုးထီးခုနစ်ကောင်တို့ကိုပြင်ဆင်လော့
၂ ဟု၊ ဗာလက်မင်းအား ဆိုသည်အတိုင်း၊- ဗာ
လက်မင်းသည်ပြုပြီးလျှင်၊ ထိုသူနှစ်ပါးတို့သည်
ယဇ်ပလ္လင်တခုတခုအပေါ်မှာ၊ နွားတကောင်
၃ စီနှင့်သိုးတကောင်စီကိုပူဇော်ကြ၏။- ဗာလမ်
ကလည်း၊မင်းကြီးပူဇော်သောမီးရှို့ရာယဇ်နား
မှာရပ်လော့၊ ငါသည်အခြားတပါးသို့သွားပါ
မည်၊ ထာဝရဘုရားသည်ငါ့ကိုတွေ့ဆုံခြင်းငှါကြွ
လာကောင်းကြွလာတော်မူလိမ့်မည်၊ ငါ့အားပြ
တော်မူသမျှကို၊ မင်းကြီးအား ငါကြားပြောပါ
မည်ဟု၊ ဗာလက်မင်းအား ဆိုပြီးမှ၊ ကုန်းတခု
၄ ပေါ်သို့ တက် သွား၏။- ဘုရားသခင်သည် ဗာ
လမ်ကိုတွေ့ဆုံတော်မူလျှင်၊ဗာလမ်က၊အကျွန်ုပ်
သည်ယဇ်ပလ္လင်ခုနစ်ခုကိုပြင်ဆင်၍၊ ပလ္လင်တ
ခုတခုအပေါ်မှာနွားထီးတကောင်စီနှင့်သိုးထီး
တကောင်စီကိုပူဇော်ပါပြီဟု လျှောက်လေ၏။-
၅ ထာဝရ ဘုရားသည် ဗာလမ်နှုတ်၌ စကားကို
ထားလျက်၊ သင်သည်ဗာလက်မင်းထံသို့ပြန်၍၊
ဤသို့ပြောလော့ဟု မိန့်တော်မူသည်အတိုင်း။-
၆ ဗာလမ် ပြန်သောအခါ၊ ဗာလက် မင်းသည်၊
မောဘ မှူးမတ်အပေါင်းတို့နှင့်တကွ၊ မိမိပူဇော်
သောမီးရှို့ရာယဇ်နားမှာရပ်နေ၏။

၈ ထိုအခါ မာ ထမီ ထည့်၊ ဗရောဇတ် စကား ထားမြဲမြွတ်ဆိုထဦကား၊ မောဘဒှင်ဘုရင်ဗာ ထတ်က၊ ထာပါ၊ ဆောမှိုယာ ချပ်ထမျိုးကိုကျွန် ဆဲပါသောပါ၊ ဗူထရေထအမျိုးကိုပျက်ဗီးခြင်း ထို့အပ်ထိုတ်ပါထုဒေါ်၍၊ ကိုထာရဲပြည်၊ ထ
၉ ရွှေတောင်မိုးမှဆောဒ်ခဲ့ပြီ၊- ဘုရားသခင် ကျွန် ဆဲတော်မရှောသောသူကို၊ ထဘယ်သို့ငါကျွန်ဆဲ နိုင်မည်နည်း၊ ဘုရားသခင်သည်ပျက်ဗီးခြင်းသို့ ထပ်တော်မမူသောသူကို၊ ထထယ်သို့ငါထပ်နိုင်
၁၀ မည်နည်း၊- ကျောက်ပေါ်က ထုကိုငါမြင်၏၊ တောင်ပေါ်က ထုကိုငါကြည့်ရှု၏၊ ထိုလူမျိုးထဦ တမျိုးတည်းနေ၍၊ အခြားတပါးသောလူမျိုးထို့
၁၁ နှုတ်မရောနှောရ၊- ယာကုပ်တမျိုးမြေမှုန့်ကိုထ ထယ်သူရေတွက်နိုင်သနည်း၊ ဗူထရေထအမျိုး ထေးစုတစုကိုမျှထဘယ်သူရေတွက်နိုင်သနည်း၊ ဖြောင့်မတ်သောသူသေသကဲ့သို့၊ ငါသေပါစေ သောဒထဆုံးသည်၊ သူ၏ထဆုံးကဲ့သို့ဖြစ်ပါစေ
၁၂ သောထု မြွတ်ဆို၏၊- မာလက်မင်းက ထည်း ထင်သည်ငါ၌ ထထယ်သို့ပြုသနည်း၊ ငါ၏ရန် သူတို့ကိုကျိန်ဆဲစေခြင်းငှါ ထင့်ကိုငါခေါ်ခဲ့ပြီ၊ ထို့သော်ထည်း၊ ထင်သည်ထုံးထုံးကောင်းကြီး ပေးလေပြီတကားဟု၊ မာထမ်အား ဆိုလျှင်၊-
၁၃ မာထမ်က ထာဝရဘုရားသည်ငါ့နှုတ်၌ထား တော်မူသောစကားကို ပြောရမည်မဟုတ်လော၊ ငါသတိ စွဲရသည်ဟု ပြန်ဆို၏၊
မာထတ်မင်းကလည်း၊ ဗူထရေထအမျိုးသား အပေါင်းတို့ကိုတပြင်နက် မမြင်ရဘဲ၊ တပိုင်းကို မျှသာကြည့်မြင်ရာ၊ ထခြားသောထရပ်သို့ငါနှင့် အတူလိုက်ပါလော့၊ ထိုထရပ်၌သူတို့ကိုငါ့အဖို့
၁၄ ကျိန်ဆဲပါဟု ဆိုလျက်၊- ဗိသဂါတောင်ပေါ်၊ သောဗိမ်ထယ်ပြင်သို့ဆောင်သွား၍၊ ယဇ်ပလ္လင် ခုနစ်ခုကိုတည်ပြီးမှ၊ ပလ္လင်တခုတခုအပေါ်မှာ နွားထီးကောင်ရေနှင့် သိုးထီးကောင်ရေကို ပူဇော်
၁၅ ထေ၏၊- မာထမ်ကထည်း၊ မင်းကြီး ပူဇော် သောမီးရှို့ရာယဇ်နားမှာရပ်လော့၊ ငါသည်ထာ ဝရဘုရားကိုခရီးဦးကြိုပြုခြင်းငှါ၊ ထခြားတပါး သို့သွားပါမည်ဟု၊ မာလက် မင်းအားဆို၏၊-
၁၆ ထာဝရဘုရားသည် မာထမ်ကိုကြိုဆို၍၊ သူ၏ နှုတ်၌စကားကိုထားပြီးလျှင်၊ ထင်သည်မာထက် မင်းထံသို့ပြန်၍၊ ဤသို့ပြောလော့ဟုမိန့်တော်မူ
၁၇ သဦအတိုင်း၊- မာထမ်ပြန်သောအခါ၊ မာထက် မင်းသည်၊ မောထမှူးမတ်တို့နှင့်တကွ၊ မိမိပူဇော်
သောမီးရှို့ရာယဇ်နားမှာရပ်နေလျက်၊ ထာဝရ ဘုရားသည် ထထယ်သို့မိန့်တော် မူသနည်းဟု မေးလေ၏၊
၁၈ ထိုအခါမာထမ်သည်၊ ပရောဇတ်စကားအား မြင့်မြွက်ဆိုသည်ကား၊ ဇိပ္ပေါ်သား မာထက် မင်း၊ ထလော့၊ စကားကို နားထောင် နားထောင်
၁၉ လော့၊- ဘုရားသခင်သည် မုသာစကားကိုပြော ဆိုသောငှါ၊ လူဖြစ်တော်မူသည်မဟုတ်၊ နောင် တရဆိုသောငှါ၊ လူသားဖြစ် တော်မူသည်မ ဟုတ်၊ မိန့်တော်မူပြီး၍၊ စကားတော်အတိုင်းမ ပြုဘဲနေတော်မူမည်လော၊ ဂတိထားတော်မူပြီး ၍၊ ဂတိတော်မတည်ဘဲနေတော်မူမည်လော၊
၂၀ ကောင်းကြီးပေးရမည်အကြောင်း၊ ထမိန့်တော် ကိုငါခံရပြီ၊ ဘုရားသခင်ကောင်းကြီးပေးတော်
၂၁ မူပြီ၊ ထိုကောင်းကြီးကိုငါမဖျက်နိုင်၊- ယာကုပ် အမျိုးကိုညှဉ်းဆဲသောအမှု၊ ဗူထရေထအမျိုး ထမတ်၌ပြုသောနှောင့်ရှက်ခြင်းအမှုကို ဘုရား သခင်ထဦကြည့်ရှု၍နေတော်မမူ၊ သူတို့ဘုရား သခင်၊ ထာဝရဘုရားသည်၊ သူတို့နှင့်အတူရှိ တော်မူ၏၊ ရှင်ဘုရင်ကျွေးကြော်ခြင်းအသံကိုသူ
၂၂ တို့တွင်ကြားရ၏၊- ဘုရားသခင်သည် အဲဂုတ္တု ပြည်မှနှုတ်ဆောင်တော်မူသည်ဖြစ်၍၊ ဗူထရေ ထထမျိုးသည်၊ ကြံ့အားကြီးသကဲ့သို့ အားကြီး
၂၃ ၏၊- ထက်ယ်စင်စစ်ယာကုပ်အမျိုးကို၊ ထူးဆန်း သော အတတ်အားဖြင့် မနိုင်ရာ၊ ဗူထရေထအ မျိုးကို အဘယ်သူမျှ စွဲစားရာ၊ ဘုရားသခင် သည်အထယ်သို့ ပြုတော်မူပြီတကားဟု၊ ထေ့ ကာလကိုထောက်၍၊ ယာကုပ်အမျိုး၊ ဗူထရေ ထအမျိုးကိုရည်စောင်းလျက် ဆိုလေ့ရှိလိမ့်မည်၊
၂၄ ဤလူမျိုးသည်၊ ခြင်သေ့ကဲ့သို့ ထလိမ့်မည်၊ ခြင် သေ့ပျိုကဲ့သို့ ထွက်လိမ့်မည်၊ စမ်းမိသောအ ကောင်ကိုမစားမှီ၊ သတ်အပ်သောတိရိစ္ဆာန်အ သွေးကို မသောက်မှီ ထိုင်စောင် ငြိမ်ဝပ်နေမ
၂၅ နေဟုမြွက်ဆို၏၊- မာလက်မင်းကလည်း၊ သူတို့ ကို အ လျှင်းမကျိန် ဆဲပါနှင့်၊ ကောင်းကြီး ကို လည်းအလျှင်းမပေးပါနှင့်ဟု၊ မာထမ်အား ဆို
၂၆ လျှင်၊- မာထမ်က၊ ထာဝရဘုရားမိန့်တော်မူသ မျှအတိုင်းငါပြုရပါမည်ဟု၊ မင်းကြီးအား အရင် ပြောနှင့်ပြီမဟုတ်သောဟု မာထတ်မင်းအား ပြန်ပြော၏၊
၂၇ ထဝန်မာထက်မင်းက၊ ထာပါလော့၊ အခြား သောအရပ်သို့ဆောင်သွားပါမည်၊ ထိုအရပ်၌

သူထို့ကိုငအမှီ ကျိန်ဆဲစေခြင်းငှါ၊ ဘုရားသခင်
အထိုတော်မှိကောင်းမှီတော်မူလိမ့်မည်ထု၊ဗာ
၂၀ ထမ်အားဆိုလျှတ်၊-ယေမှိရုန်မြို့ကိုမျက်နှာပြု
သော၊ ပေဂုရ တောင် ထိပ်သို့ ဆောင်သွားထေ
၂၅ ၏၊-ဗာထမ်ကထည်း၊ ဤအရပ်၌ ငအမှိထဏ်
ပဏ္ဏင် ရှစ်ခုကို တည်ထော့၊ နွားထီး ရှစ်
ကောင်၊သိုးထီးရှစ်ကောင်ထို့ကိုပွင်ဆင်ထော့
၃၀ ထု၊ ဗာထက်မင်းအားဆိုသည် အတိုင်း၊- ဗာ
ထက်မင်းသည်ပြု၍၊ ထဏ် ပဏ္ဏင်တခုတခု အ
ပေါ်မှာ၊ နွားတကောင်စီနှင့်သိုးတကောင်စီကို
ပူဇော်ထေ၏၊

၂၄

၁ ထာဝရ ဘုရားသည်၊ ဣသရေထ အမျိုးကို
ကောင်းကြီးပေးခြင်းငှါအလိုရှိတော်မူကြောင်း
ကိုဗာထမ်သိမြင်လျှင်၊ ထူးဆန်းသောအတတ်
ကို ရှာခြင်းငှါ အရင်သွားသကဲ့သို့ မသွားဘဲ၊
၂ တောသို့ မျက်နှာ ပြုထေ၏၊- သို့ရာတွင်၊ မျှော်
ကြည့်၍ ဣသရေထအမျိုးသားတို့သည် အမျိုး
အနွယ်အလိုက်၊ အသီးအသီး တပ်ချလျက်နေ
ကြသည်ကို မြင်သော အခါ၊ ဘုရား သခင်၏ ဝိ
ညည်တော်သဦသူအပေါ်မှာသက်ရောက်တော်
၃ မူလျှင်၊- သူသည် ပရောဖက် စကား အား ဖြင့်
မြွတ်ဆိုထေသည်မှာ၊ မျက်မိပွင့်သေဉ္သူ၊ဗော
၄ ရသား ဗာထမ်၏ စကား၊- ထဝင်ဖြစ်၍ မျက်မိ
ပွင့်လျှတ် အနန္တတန်ခိုးရှင်၏ ရူပါရုံကို မြင်၍၊
ဘုရားသခင်၏ အမိန့်တော်ကို ကြားသောသူ၏
၅ စကားဟူမူကား၊-ဖိုထာကုပ်အမျိုး၊သင်တို့၏
ထဲများ၊ ဖိုဣသရေလအမျိုး၊ သင်တို့၏ဘုံမိတ်
မှန်များတို့သည် အထယ်မျှထောက်တင့်တယ်
၆ ကြသည်တကား၊- ကျယ်ဝန်းသော ချိုင့်များ၊
မြစ်နားမှာရှိသော ဥယည်များ၊ ထာဝရဘုရား
စိုက်တော်မူသော အကျော်ပင်များ၊ ရေနားမှာ
ပေါက်သောအာရဏ်ပင်များကဲ့သို့ဖြစ်ကြသည်
၇ တထား၊- ထိုအမျိုး၏ရေပုံးထို့မှရေစီးလိမ့်မည်၊
ရေပေါသော အရပ်၌ မျိုးစေ့ကျလိမ့်မည်၊သူ၏
ရှင်ဘုရင်သည်၊ အာဂတ်မင်းထက်ဘုန်းကြီး၍၊
နိုင်ငံတော်သည်၊ ချီးမြှောက်သောနိုင်ငံဖြစ်လိမ့်
၈ မည်၊- ဘုရားသခင်ထည် အဲဂုတ္တုပြည်မှနှုတ်
ဆောင်တော်မူသည်ဖြစ်၍၊ ဣသရေထ အမျိုး
ထည်၊ကြံ့အားကြီးသကဲ့သို့၊အားကြီး၏၊ရန်သူ
ဖြစ်သောလူမျိုးထို့ကို ကိုတ်ဝါး၍၊ အရိုး ထို့ကို
ချိုးဖဲ့ ထိမ့်မည်၊ မြှားဖြင့် ထွတ်ချင်း ခပ်ဆောင်
၉ ခွင်းလိမ့်မည်၊- ဝပ်လျှတ် ရှေ၏၊ ချင်သေ့ကဲ့သို့
ငုင်၊ ချင်ရေ့မကဲ့သို့ငုင်ဝပ်တွားထေ၏၊အဘယ်
သူနှိုးဆော်ဝံ့မည်နည်း၊ သင့်ကိုကောင်းကြီးပေး
သောသူသည်၊ကောင်းကြီးမင်္ဂလာရှိ၏၊သင့်ကို
ကျိန်ဆဲသောသူသည်၊ ကျိန်ဆဲခြင်းကိုခံရသည်
ထုမြွတ်ဆို၏၊
၁၀ ထိုအခါ ဗာထက်မင်းသည်၊ ဗာထမ်ကို အ
မျက်ထွက်၍ထက်ခုပ်တီးလျက်၊ ငါ၏ရန်သူတို့
ကို ကျိန်ဆဲစေခြင်းငှါ၊သင့်ကိုငါခေါ်ခဲ့၏၊ထင်
ထည် သုံးကြိမ်တိုင်အောင် အကြွင်းမဲ့ ကောင်း
၁၁ ကြီးပေးလေပြီတကား၊-ထိုကြောင့်၊ သင့်နေရာ
ပြည်သို့ပြေးသွားထော့၊သင့်ကိုချီးမြှောက်မည်
ထု၊အထက်ကငါအကြံရှိ၏၊ သို့ရာတွင်၊ထာဝရ
ဘုရားသည်သင်၏ ဘုန်းကို မတိုးပွားစေခြင်းငှါ
၁၂ ဆီးတားလေပြီဟုဆို၏၊-ဗာထမ်ကထည်း၊ဗာ
ထက်မင်းသည် ရွှေ ငွေနှင့် ပြည့်သော မိမိ နန်း
၁၃ တော်ကိုပင်ပေးသော်လည်း၊- ထာဝရဘုရား၏
ပညတ်တော်ကိုလွန်ကျူး၍ကောင်းသောအမှု
မကောင်းသောအမှုတစုံတခုကို၊ ကိုယ်အလိုအ
လျောက်ငါမပြုနိုင်၊ ထာဝရဘုရားမိန့်တော်မူ
သမျှကို ငါပြောပါမည်ထု၊ မင်းကြီး စေလွှတ်
သော သံတမန် တို့ အား ငါပြော နှင့်ပြီ၊ မယုတ်
၁၄ ထော၊- ယခုမူကား၊ ငအဆွေအမျိုးတို့ ထံသို့
ငါသွားတော့မည်၊နားထောင်ပါ၊နောင်ကာလ
၌ဤလူမျိုးသည်မင်းကြီး၏လူမျိုး၌ အဘယ်သို့
ပြုမည် အရာကို၊ မင်းကြီး အား ကြားပြောပါ
၁၅ မည်ယှ၊ ဗာလက်မင်းအားပြန်ဆိုပြီးမှ၊-ပရော
ဖက်စကားအားဖြင့်မြွက်ဆိုလေသည်မှာ၊ မျက်
မိပွင့်သောသူ၊ ဗောရသားဗာလမ်၏ စကား၊-
၁၆ ထဝင်ဖြစ်၍မျက်မိပွင့်လျက်၊ အနန္တတန်ခိုးရှင်
၏ရူပါရုံကိုမြင်၍၊ အမြင့်ဆုံး သော ဘုရားပေး
တော်မူသော ညာဏ်ကိုရ၍၊ ဘုရား သခင် ၏
အ မိန့် တော်ကို ကြား သော သူ၏ စကား ဟူ မူ
၁၇ ကား၊-ထိုအရာကိုငါမြင်၏၊သို့သော်လည်း၊ယခု
မဖြစ်ရသေး၊ထိုအရာကိုငါရှု၏၊ သို့သော်ထည်း၊
ဖြစ်ရသောအချိန်မနီးသေး၊ ကြယ်တလုံးသည်
ယာကုပ် အမျိုး၌ပေါ်ထွန်း၍၊ ရာဇလှံတံသည်
ဣသရေလအမျိုး၌ ထင်ရှားလိမ့်မည်၊ မောအ
ပြည်စွန်းတိုင်အောင်ထိခိုက်၍၊မငြိမ်မဝပ်ရုန်း
ရင်း ခတ် ပြုတတ်သော သူအပေါင်းတို့ကို ဖျက်
၁၈ ဆီးလိမ့်မည်၊- ဧဒုံပြည်ကိုထည်းသိမ်းယူလိမ့်
မည်၊ မိရတောင်သည်လည်း၊ ရန်သူလက်သို့

ရောက်လိမ့်မည်။ ဣသရေလအမျိုးသည်ရဲရင့်
၁၉ စွာပြုလိမ့်မည်။- အစိုးရသောသူတပါးသည်၊
ယာကုပ်အမျိုးထဲကထွက်၍၊ ကျန်ကြွင်းသော
မြို့သူမြို့သားတို့ကို ဖျက်ဆီးလိမ့်မည်ဟုမြွက်ဆို
၂၀ ၏။-တဖန်အာမလက်ပြည်ကိုကြည့်ရှု၍၊ ပရော
ဖက်စကားအားဖြင့်မြွက်ဆိုပြန်သည်ကား၊ အာ
မလက်အမျိုးသည်လူမျိုးတကာတို့ထက်အထွဋ်
ဖြစ်ဘူးသော်လည်း၊ အဆုံး၌ ရှင်းရှင်း ပျက်စီး
၂၁ ခြင်းသို့ ရောက်လိမ့်မည်ဟုမြွက်ဆို၏။- တဖန်
ကေနိအမျိုးသားတို့ကိုကြည့်ရှု၍၊ ပရောဖက်စ
ကားအားဖြင့် မြွက်ဆိုပြန်သည်ကား၊ သင်တို့
နေရာသည် အားကြီး၏။ ကျောက်ပေါ်မှာ အ
၂၂ သိုက်ကိုလုပ်ကြပြီ။- သို့သော်လည်း၊ အာရှုရိ
မင်းသည်သိမ်းယူ၍ မသွားမှီတိုင်အောင်၊ ကေ
နိအမျိုးသည် အရှုံးကို ခံရလိမ့်မည်ဟု မြွက်
၂၃ ဆို၏။-တဖန်ပရောဖက်စကားအားဖြင့်မြွက်ဆို
ပြန်သည်ကား၊ အလိုလေ့၊ ဤအမှုကိုဘုရားသ
ခင်စီရင်တော်မူသောအခါ၊ အဘယ်သူသည်အ
၂၄ သက်ချမ်းသာရလိမ့်မည်နည်း။- သင်္ဘောတို့
သည်လည်း ကိတ္တိမ်ပြည်မှလာ၍၊ အာရှုရိပြည်
ကိုငှင်၊ ဟေဗာပြည်ကိုငှင် နှောင့်ရှက်ကြလိမ့်
မည်။သူတို့သည်လည်းရှင်းရှင်းပျက်စီးကြလိမ့်
၂၅ မည်ဟုမြွက်ဆိုပြီးမှ၊-ဗာလမ်သည်ထ၍မိမိနေ
ရာအရပ်သို့ ပြန် သွား၏။ ဗာလက် မင်း သည်
လည်းသွားလေ၏။

၂၅

၁ ဣသရေလအမျိုးသားတို့သည် ရှိတ္တိမ်အရပ်
၌နေသောအခါ၊အချို့တို့သည်မောဘမိန်းမတို့နှင့်
၂ မတရားသောမေထုန်ကိုပြုကြ၏။-ထိုမိန်းမတို့သည်
မိမိတို့ဘုရားရှေ့မှာယဇ်ပူဇော်ရာပွဲသို့ဣသရေ
လလူတို့ကိုခေါ်သွားသဖြင့်၊ယောကျ်ားတို့သည်
ယဇ် သားကို စား၍၊ ထိုဘုရား ရှေ့မှာ ဦးချကြ
၃ ၏။- ထိုသို့ဣသရေလအမျိုးသားတို့သည်၊ ဗာ
လပေဂုရ ဘုရားကို ဆည်း ကပ် သော ကြောင့်၊
ထာဝရ ဘုရားသည် အမျက် ထွက်တော် မူ၏။-
၄ ထာဝရဘုရားကလည်း၊ ငါသည်ပြင်းစွာသော
အမျက်တော်ကို ဣသရေလ အမျိုးမှ လွှဲစေခြင်း
ငှါ၊ဣသရေလမင်းအပေါင်းတို့ကိုခေါ် ၍၊ ပြစ်
မှားသောသူတို့ကို၊ဘုရားရှေ့မှာ ထင်ရှားစွာဆွဲ
၅ ထားလော့ဟု၊ မောရှေအားမိန့်တော်မူ၏။-မော
ရှေသည်ဣသရေလမင်းတို့ကိုခေါ် ၍၊ဗာလပေ
ဂုရဘုရားကိုဆည်းကပ်သောသူတို့ကို၊ သင်တို့
အသီးအသီး ဆိုင်သည်အတိုင်း၊ ကွပ်ဖျတ်ကြ
လော့ဟုမှာထားလေ၏။
၆ ထိုအခါ ဣသရေလ အမျိုးသား တယောက်
သည်၊မောရှေရှေ့၌၎င်း၊ ပရိသတ်စည်းဝေးရာ
တဲတော်တံခါးနားမှာ ငိုကြွေးသော ဣသရေလ
အမျိုး သား ပရိသတ် အပေါင်းတို့ရှေ့၌ ၎င်း၊ မိ
ဒျန်မိန်းမကိုလည်း၊ မိမိညီအစ်ကိုတို့ထံသို့ဆောင်
၇ ခဲ့လေ၏။- ထိုအမှုကို၊ ယဇ်ပရောဟိတ်အာရုန်
၏သား၊ ဧလာ ဇာ၏သား၊ ဖိနဟတ်သည် မြင်
လျှင်၊ ပရိသတ်ထဲမှာထ၍ လှံကိုကိုင်လျက်၊-
၈ ထိုဣသ ရေလ လူကို တဲ အတွင်းသို့ လိုက်ပြီးမှ၊
ယောကျ်ားကို ထုတ်ချင်း ခပ်အောင်၎င်း၊ မိန်းမကို
ဝမ်းပေါက်အောင်၎င်းထိုးလေ၏။ ထိုသို့ပြုသော
အားဖြင့်၊ ဣသရေလ အမျိုးသားတို့တွင် ဘေး
၉ ငြိမ်း လေ၏။- ထိုဘေးဖြင့် သေသော လူပေါင်း
ကား၊ နှစ်သောင်းလေးထောင်ရှိသတည်း။
၁၀ ထာဝရဘုရားကလည်း၊ငါသည်အမျက်ထွက်
၁၁ ၍ ဣသရေလ အမျိုးသားတို့ကို မဖျက်ဆီးမည်
အကြောင်း၊ ယဇ်ပရောဟိတ် အာရုန်၏သား၊ ဧ
လာဇာ၏သား၊ ဖိနဟတ်သည်သူတို့တွင်ငါ့ဘက်
၌စိတ်အားကြီး၍၊ ငါ့အမျက်ကိုသူတို့မှလွှဲပြီ။-
၁၂ ထို့ဖြစ်၍၊ သင်ပြောရသည်ကား၊ ငါ၏ချမ်းသာ
၁၃ ပဋိညာဉ်ကို သူ့အား ငါ ပေး၏။- သူသည် မိမိ
ဘုရား သခင်ဘက်၌ စိတ်အားကြီး၍၊ ဣသရေ
လအမျိုးသားတို့အဖို့အပြစ်ဖြေခြင်းကိုပြုသော
ကြောင့်၊သူမှစ၍၊ သားစည်မြေးဆက်တို့သည်၊
ထိုပဋိညာဉ်တည်းဟူသော၊ ထာဝရယဇ်ပရော
ဟိတ် အရာနှင့် ဆိုင်သော ပဋိညာဉ်ကို ရပြီဟု၊
၁၄ မောရှေအားမိန့်တော်မူ၏။- မိဒျန်မိန်းမနှင့်အသေ
သတ်ခြင်းကို ခံရသော ဣသရေလလူ၏ အမည်
ကား၊ ရှိမောင်အမျိုး၌ထင်ရှားသော၊အဆွေအ
မျိုးတွင် အကဲအမှူး သာလု ၏သား၊ ဇိမရိ ဖြစ်
၁၅ သတည်း။- အသေသတ်ခြင်းကို ခံရသော မိဒျန်
မိန်းမအမည်ကား၊ မိဒျန်အမျိုး၌ထင်ရှားသော၊ အ
ဆွေအမျိုးတွင်အကဲအမှူးဇုရ၏သမီး၊ကောဇဘိ
ဖြစ်သတည်း။
၁၆ ထာဝရဘုရားကလည်း၊ မိဒျန်အမျိုးသားတို့
၁၇ ကိုနှောင့်ရှက်၍လုပ်ကြံကြလော့။-အကြောင်း
မူကား၊ သူတို့သည်ပေဂုရဘုရားအမှု၌၎င်း၊ပေ
ဂုရဘုရားကြောင့်ဘေးရောက်သောနေ့၌အသေ
သတ်ခြင်းကိုခံရသောသူတို့နှမ၊ မိဒျန်မင်းသမီး
ကောဇဘိအမှု၌၎င်း၊ သင်တို့ကိုပရိယာယ်များ

အားဖြင့်ဗျည့်ခါးနှောင်ရှုတ်ကြပြီတုံ၊ မောရှေ
အားမိန့်တော်မူ၏။

၂၆

၁ ထိုဘေးပြေမ်းသောနောက်၊ထာဝရဘုရားက၊-
၂ အသက်နှစ်ဆယ်လွန်၍စစ်ထိုက်နိုင်သောဣသ
ရေလအမျိုးသားပရိသတ်အပေါင်းတို့ကို၊ထိုး
သ အဆွေအမျိုး အလိုက်၊ စာရင်းယူကြလော့
ဟု၊ မောရှေနှင့် ယဇ်ပရောဟိတ် ဧလာဇာကို
၃ အားမိန့်တော်မူသည်အတိုင်း၊-သူတို့သည်မော
အလွင်ပြင်၊ ယော်ဒန်မြစ်နား၊ ယေရိခေါမြို့ထ
၄ ဖက်၌၊-အသက်နှစ်ဆယ်လွန်သောသူတို့ကိုစာ
ရင်းယူရမည်အကြောင်းဆင့်ဆိုကြ၏၊
၅ အဲဂုတ္တုပြည်မှထွက်လာသောဣသရေလအ
မျိုးသားတို့တွင်၊ ဣသရေလ၏သား ဦးရုဗင်၏
သား ဟူမူကား၊ ဟာနုတ်မှ ဆင်းသက်သော
ဟာနုခိအဆွေ အမျိုး၊ ဖာလုမှ ဆင်းသက်
၆ သောဖာလွိအဆွေအမျိုး၊-ဟေဇရုံမှဆင်းသက်
သော ဟေဇရောနိ အဆွေအမျိုး၊ ကာမိမှ ဆင်း
၇ သက်သောကာမိတ်အဆွေအမျိုးတည်း၊- ဤသူ
တို့သည် ရုဗင်အဆွေ အမျိုးဖြစ်၍၊ စာရင်းဝင်
သောလူပေါင်းကား၊ လေးသောင်းသုံးထောင်ခု
၈ နှစ်ရာသုံးဆယ်ရှိသတည်း။- ဖာလု၏သားဧလျာ
၉ ဘ၊ ဧလျာဘ၏သားနေမွေလ၊ ဒါသန်၊ အဘိရံ
တည်း၊- ဤ ဒါသန်၊ အဘိရံ တို့သည် အခြား
မထုတ်၊ ကောရ အပေါင်း အသင်း သည် ထာ
ဝရဘုရား နှင့် ဆန့်ကျင်ဘက် ပြုသော အခါ၊
ပရိသတ်၌ ကျော်စော၍ မောရှေနှင့်အာရုန်ကို
ဆန့်ကျင်ဘက် ပြုသောဒါသန်၊ အဘိရံ ဖြစ်ကြ
၁၀ ၏။- မြေကြီးသည်မိမိခံတွင်းကိုဖွင့်၍ သူတို့ကို
၎င်း၊ ကောရ ကို၎င်း မျိုသဖြင့်၊ ထိုအပေါင်း အ
သင်းဝင်သူတို့သည်သေကြ၏။မီးသည်ထည်း၊
လူ နှစ်ရာငါးဆယ်တို့ကို အသက်ဆုံးစေ၏၊ ထို
သူတို့သည် သတိ ပေးသော သက်သေ ဖြစ်သ
၁၁ တည်း၊- သို့ရာတွင်၊ကောရ၏သားတို့ထို့သည်
သေသေးနှင့်လွတ်ကြ၏။
၁၂ ရှိမောင်၏ အဆွေအမျိုးအလိုက်၊ ရှိမောင်၏သား
တို့မူကား၊ နေမွေလမှဆင်းသက်သောနေမွေ
လိအဆွေအမျိုး၊ ယာမိန်မှဆင်းသက်သောယာ
မိနိအဆွေအမျိုး၊ ယာခိန်မှဆင်းသက်သောယာ
၁၃ ခိနိအဆွေအမျိုး၊-ဇေရမှဆင်းသက်သောဇေရ
ဟိအဆွေအမျိုး၊ ရှောလမှဆင်းသက်သောရှော
၁၄ လိအဆွေအမျိုးတည်း၊- ဤသူတို့သည်ရှိမောင်
အဆွေအမျိုးဖြစ်၍ လူပေါင်းကား၊ နှစ်သောင်း
နှစ်ထောင်နှစ်ရာရှိသတည်း။
၁၅ ဂဒ်၏ အဆွေအမျိုးအလိုက်၊ဂဒ်၏သားတို့မူ
ကား၊ဇေဖုန်မှဆင်းသက်သောဇေဖောနိအဆွေ
အမျိုး၊ ဟဂ္ဂိမှဆင်းသက်သောဟဂ္ဂိတ်အဆွေအ
မျိုး၊ရှုနိမှဆင်းသက်သောရှုနိတ်အဆွေအမျိုး၊-
၁၆ ဩဇနိမှ ဆင်းသက် သော ဩဇနိတ် အဆွေအ
မျိုး၊ဧရိမှဆင်းသက်သောဧရိတ်အဆွေအမျိုး၊-
၁၇ အာရုဒ်မှ ဆင်းသက်သော အာရောဒိအဆွေအ
မျိုး၊ အရေလိမှဆင်းသက်သော အရေလိတ်အ
၁၈ ဆွေ အမျိုးတည်း၊- ဤသူတို့သည် ဂဒ်အဆွေအ
မျိုးဖြစ်၍၊ စာရင်းဝင်သောလူပေါင်းကား၊လေး
သောင်းငါးရာရှိသတည်း။
၁၉ ယုဒ၏သားဟူမူကား၊ခါနာန်ပြည်၌သေသော
၂၀ ဧရနှင့်ဩနန်အစရှိသော၊- ယုဒ၏အဆွေအမျိုး
အလိုက်၊ရှေလမှဆင်းသက်သောရှေလနိအဆွေ
အမျိုး၊ ဖါရက်မှဆင်းသက်သောဖါရက်အဆွေ
အမျိုး၊ ဇေရမှဆင်းသက်သောဇေရဟိအဆွေ
၂၁ အမျိုးတည်း၊- ဖါရက်၏သား၊ ဟေဇရုံမှဆင်း
သက်သောဟေဇရောနိအဆွေအမျိုး၊ ဟာမုလ
မှဆင်းသက်သောဟာမုလိအဆွေအမျိုးတည်း၊-
၂၂ ဤသူတို့သည် ယုဒ အဆွေအမျိုးဖြစ်၍၊ စာရင်း
ဝင်သော လူပေါင်းကား၊ ခုနစ်သောင်းခြောက်
ထောင်ငါးရာရှိသတည်း။
၂၃ ဣသခါ၏ အဆွေအမျိုးအလိုက်၊ ဣသခါ၏သား
ဟူမူကား၊ တောလမှဆင်းသက်သောတောလ
အဆွေ အမျိုး၊ ဖုဝါမှဆင်း သက်သော ဖုဝနိအ
၂၄ ဆွေအမျိုး၊- ယာရှုပ်မှ ဆင်းသက်သော ယာရှု
ဗိအဆွေအမျိုး၊ ရှိမရုန်မှဆင်းသက်သော ရှိမ
၂၅ ရောနိအဆွေအမျိုးတည်း၊- ဤသူတို့သည်ဣသ
ခါအဆွေအမျိုးဖြစ်၍၊စာရင်းဝင်သောလူပေါင်း
ကား၊ ခြောက်သောင်း လေးထောင်သုံးရာ ရှိသ
တည်း။
၂၆ ဇာဗုလုန်၏ အဆွေ အမျိုး အလိုက်၊ ဇာဗုလုန် ၏
သားဟူမူကား၊ သရက်မှဆင်းသက်သောသရ
ဒိအဆွေအမျိုး၊ ဧလုန်မှဆင်းသက်သောဧလော
နိ အဆွေအမျိုး၊ ယာလေလမှ ဆင်း သက်သော
၂၇ ယာလေလိအဆွေအမျိုးတည်း၊-ဤသူတို့သည်
ဇာဗုလုန်အဆွေအမျိုးဖြစ်၍၊ စာရင်းဝင်သော
လူ ပေါင်း ကား၊ ခြောက် သောင်း ငါး ရာ ရှိ သ
တည်း။
၂၈ ယောသပ်၏ အဆွေအမျိုးအလိုက်၊ ယောသပ်၏သား



 

၂၉ မနာရှေနှင့်စပ်မိတ်တို့တွင်၊ မနာရှေ၏သားဟူမူ
ကား၊ မာခိရမှ ဆင်းသက်သော မာခိရိ အဆွေ
၃၀ အမျိုး။– ယေဇေရမှဆင်းသက်သောယေဇေရိ
အဆွေအမျိုး၊ ဟေလက်မှဆင်းသက်သောဟေ
၃၁ လကိ အဆွေ အမျိုး၊– အာသရေလမှ ဆင်းသက်
သောအာသရေလိအဆွေအမျိုး၊ ရှေခင်မှဆင်း
၃၂ သက်သောရှေခေမိအဆွေအမျိုး၊– ရှမိဒမှဆင်း
သက်သော ရှမိဒိအဆွေအမျိုး၊ ဟေဖာမှဆင်း
သက်သောဟေဖေရိအဆွေအမျိုးတည်း။ မာခိ
ရ၏ သား၊ ဂိလဒ်မှဆင်းသက်သောဂိလဒိ အဆွေ
၃၃ အမျိုး တည်း၊– ဟေဖာ၏ သား ဇလောဖဟဒ်၌
ကား၊ သားယောကျ်ားမရှိ၊ သမီးသက်သက်သာ
ရှိ၏၊ ဇလောဖဟဒ်၏သမီးတို့အမည်ကား၊ မာလာ၊
နောအာ၊ ဟောဂလာ၊ မိလကာ၊ တိရဇာတည်း။–
၃၄ ဤသူတို့သည် မနာရှေ အဆွေအမျိုးဖြစ်၍၊ စာ
ရင်း ဝင်သော လူ ပေါင်းကား၊ ငါးသောင်းနှစ်
ထောင်ခုနစ်ရာရှိသတည်း။
၃၅ ထိုသူ အဆွေအမျိုးအလိုက်၊ ဧဖရိမ်၏သား
ဟူမူကား၊ ရှုသလမှဆင်းသက်သောရှုသလိအ
ဆွေအမျိုး၊ ဗေခါမှဆင်းသက်သော ဗေခရိအ
ဆွေအမျိုး၊ တာဟန်မှဆင်းသက်သောတာဟနိ
၃၆ အဆွေအမျိုးတည်း။– ရှုသလ၏သား ဧရန်မှ
၃၇ ဆင်းသက်သောဧရနိအဆွေအမျိုးတည်း။– ဤ
သူတို့သည်၊ ဧဖရိမ်အဆွေအမျိုးဖြစ်၍၊ စာရင်း
ဝင်သောလူပေါင်းကား၊ သုံးသောင်းနှစ်ထောင်
ငါးရာရှိသတည်း။ ဤသူတို့သည်ထိုအဆွေ
အမျိုးအလိုက်၊ ယောသပ်၏သားမြေးဆက်
ဖြစ်သတည်း။
၃၈ ထိုသူ အဆွေ အမျိုး အလိုက်၊ ဗင်္ယာမိန်၏
သားဟူမူကား၊ ဗေလမှဆင်းသက်သောဗေလိ
အဆွေအမျိုး၊ အာရှဗေလမှ ဆင်းသက် သော
အာရှဗေလိအဆွေအမျိုး၊ အဟိရံမှဆင်းသက်
၃၉ သောအဟိရမိအဆွေအမျိုး၊– ရှုဖံမှဆင်းသက်
သောရှုဖမိအဆွေအမျိုး၊ ဟုဖံမှဆင်းသက်သော
၄၀ ဟုဖမိအဆွေအမျိုးတည်း။– ဗေလသား၊ အာရဒ
မှ ဆင်း သက် သော အာ ရ ဒိ အဆွေ အမျိုး၊ နေ
မန် မှ ဆင်း သက် သော နေ မ နိ အ ဆွေ အ မျိုး
၄၁ တည်း။– ဤသူတို့သည်ဗင်္ယာမိန် အဆွေအမျိုး
ဖြစ်၍၊ စာရင်းဝင်သော လူပေါင်းကား၊ လေး
သောင်းငါးထောင်ခြောက်ရာရှိသတည်း။
၄၂ ထိုအဆွေအမျိုးအလိုက်၊ ဒန်၏သားဟူမူ
ကား၊ ရှုဟံမှဆင်းသက်သော ရှုဟမိအဆွေအ
မျိုးတည်း။ ဤသူတို့သည် ဒန်အဆွေ အမျိုးဖြစ်
၄၃ ၍၊– စာရင်း ဝင် သော ရှုဟမိ လူ ပေါင်း ကား၊
ခြောက်သောင်းလေးထောင်လေးရာရှိသတည်း။
၄၄ ထိုအဆွေအမျိုး အလိုက်၊ အာရှာ၏သား
ဟူမူကား၊ ယိမနမှ ဆင်းသက်သော ယိမနိအ
ဆွေအမျိုး၊ ယေသဝိမှဆင်း သက်သောယေသ
ဝိတ်အဆွေအမျိုး၊ ဗေရိမှ ဆင်းသက်သောဗေ
၄၅ ရိတ်အဆွေအမျိုးတည်း။– ဗေရိ၏သား၊ ဟေဗေ
ရမှဆင်းသက်သောဟေဗေရိအဆွေအမျိုး၊ မာ
လခေလမှ ဆင်းသက်သော မာလခေလိ အဆွေ
၄၆ အမျိုးတည်း။– အာရှာ၏သမီးအမည်ကား၊ စာ
၄၇ ရာတည်း။– ဤသူတို့သည်အာရှာအဆွေအမျိုး
ဖြစ်၍၊ စာရင်း ဝင်သော လူပေါင်း ကား၊ ငါး
သောင်းသုံးထောင်လေးရာရှိသတည်း။
၄၈ ထိုအဆွေအမျိုးအလိုက်၊ နဿလိ၏သား
ဟူမူကား၊ ယာဇေလမှ ဆင်းသက်သော ယာ
ဇေလိ အဆွေအမျိုး၊ ဂုနိမှ ဆင်း၊ သက်သောဂု
၄၉ နိတ်အဆွေအမျိုး၊– ယေဇေရမှဆင်း၊သက်သော
ယေဇေရိ အဆွေအမျိုး၊ ရှိလ္လင်မှ ဆင်း သက်
၅၀ သောရှိလ္လမိအဆွေအမျိုးတည်း။– ဤသူတို့သည်
နဿလိ အဆွေအမျိုးဖြစ်၍၊ စာရင်းဝင်သော
လူပေါင်းကား၊ လေးသောင်းငါးထောင် လေး
၅၁ ရာ ရှိသတည်း။– ထိုသို့ ဣသရေလ အမျိုး၊ စာ
ရင်း ဝင် သူ လူ ပေါင်း ကား၊ ခြောက် သိန်း တ
ထောင်ခုနစ်ရာငါးဆယ်ရှိသတည်း။
၅၂ ထာဝရဘုရားကလည်း၊ ဤသူတို့အားအရေ
၅၃ အတွက်ရှိသည်အတိုင်း၊ ခါနာန်ပြည်ကို ဝေရ
၅၄ မည်။– လူများလျှင်၊ များသောအမွေမြေကိုရင်၊
လူနည်းလျှင်၊ နည်းသော အမွေမြေကိုရင်၊ အ
နည်း အများအလိုက်၊ အသီးအသီးတို့အားအ
၅၅ မွေမြေကိုဝေပေးရမည်။– သို့ရာတွင်၊ ထိုပြည်
ကို၊ စာရေးတံချ၍ ဝေရမည်။ ထိုအမျိုးအ
၅၆ နွယ်အလိုက် အမွေခံရကြမည်။– စာရေးတံကျ
သည်အတိုင်း၊ မြေကိုဝေ၍ အနည်း အများအ
လိုက်ပိုင်ရကြမည်ဟု၊ မောရှေအား မိန့်တော်
မူ၏။
၅၇ ထိုသောအဆွေအမျိုးအလိုက်၊ စာရင်းဝင်သော
လေဝိ၏ သားဟူမူကား၊ ဂေရရှုန်မှ ဆင်းသက်
သောဂေရရှုနိ အဆွေအမျိုး၊ ကောဟတ်မှ
ဆင်းသက် သောကောဟသိ အဆွေအမျိုး၊ မေ
ရာရိမှဆင်းသက်သော မေရာရိတ်အဆွေအမျိုး
၅၈ တည်း။– ဤသည်လျှင်၊ လေဝိအဆွေအမျိုးဖြစ်

၌၊ လိဗနိအဆွေအမျိုး၊ ဟေဗြောနိအဆွေအ
မျိုး၊ မာလိအဆွေအမျိုး၊ မုရှိအဆွေအမျိုး၊ ကော
ရထိ အဆွေ အမျိုး ပါသတည်း။ ကောဟတ်၏
၅၉ သားကား၊ အာမရံတည်း။- အာမရံ၏ မယား
ကား၊ အဲဂုတ္တုပြည်၌ လေဝိမယားဖွားမြင်သော
လေဝိ၏ သမီး ယောခေဗက်တည်း။ ထိုမိန်းမသည်
အာမရံ၏မယားဖြစ်၍၊ အာရုန်၊ မောရှေ၊ နှမမိ
၆၀ ရိအံတို့ကိုဖွားမြင်လေ၏။- အာရုန်၏သားကား၊
၆၁ နာဒပ်၊ အဘိဟု၊ ဧလာဇာ၊ ဣသမာတည်း။- နာ
ဒပ်နှင့်အဘိဟုတို့သည်၊ ထာဝရဘုရားရှေ့တော်
၌ ထူးခြားသောမီးကိုပူဇော်သောအခါ သေကြ
၆၂ ၏။- အသက်တလလွန်၍ စာရင်းဝင်သောလေဝိ
သား ယောကျ်ား ပေါင်းကား၊ နှစ်သောင်း သုံး
ထောင်ရှိသတည်း။ သူတို့သည်၊ ဣသရေလအ
မျိုးသားတို့နှင့်အတူ အမွေမခံရသောကြောင့်၊
၆၃ ရောနှော၍ စာရင်းမဝင်ရကြ။- ဤရွေကား၊ မော
ရှေနှင့်ယဇ်ပုရောဟိတ် ဧလာဇာတို့သည်၊ မော
အလွင်ပြင်၊ ယော်ဒန်မြစ်နား၊ ယေရိခေါမြို့တ
စ်ထံ၌ စာရင်းယူသော ဣသရေလအမျိုးသားပေ
၆၄ တည်း။- မောရှေနှင့်ယဇ်ပုရောဟိတ်အာရုန်တို့
သည်၊ သိနာတော၌ ဣသရေလအမျိုးသားတို့
ကို စာရင်းယူ၍၊ ထိုစာရင်း၌ ဝင်သော သူတ
၆၅ ယောက်မျှမပါ။- အကြောင်းမူကား၊ ထိုသူတို့
သည်တော၌ အမှန်သေရကြမည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူပြီ။ ယေဖုန္နာ၏သားကာလက်
နှင့်နုန်၏ သား ယောရှုမှတပါး၊ အရင်း လူတ
ယောက်မျှမကြွင်းမကျန်ရ။

၂၇

၁ ထိုအခါယောသပ်၏သား၊ မနာရှေအဆွေအ
မျိုး၌ပါလျက်၊ မနာရှေ၊ မာခိရ၊ ဂိလဒ်၊ ဟေဖေရ
တို့မှဆင်းသက်သောဇလောဖဟဒ်၏သမီး မာလာ၊
နောအာ၊ ဟောဂလာ၊ မိလကာ၊ တိရဇာ တို့
၂ သည်လာ၍၊- ပရိသတ်စည်းဝေးရာတဲတော်
တံခါးနား၊ မောရှေနှင့်ယဇ်ပုရောဟိတ် ဧလာ
ဇာ၊ မင်းများ၊ ပရိသတ်များအပေါင်းတို့ရှေ့မှာ
၃ ရပ်လျက်၊- အကျွန်ုပ် တို့၏ အဘသည် တော၌
သေပါ၏။ ထာဝရဘုရား တဘက်၌ စုဝေးသော
အပေါင်းအသင်း၊ ကောရ၏ အပေါင်းအသင်း
၌မပါ။ မိမိအပြစ်ကြောင့် သေပါ၏။ သူ၌သား
၄ ယောကျ်ားမရှိပါ။- ထိုသို့သားယောကျ်ား မရှိ
သောကြောင့်၊ အကျွန်ုပ်တို့အဘ၏အမည်သည်
အကျွန်ုပ် တို့ အဆွေ [illegible] ပျောက်ရ ပါမည်
လော၊ အကျွန်ုပ်တို့အဘ၏ ညီအစ်ကိုတို့နှင့် အ
တူ၊ အကျွန်ုပ်တို့အား၊ အမွေပေးပါဟု လျှောက်
၅ ကြ၏။- သူတို့အမှုကိုမောရှေသည်ထာဝရဘုရား
၆ ရှေ့တော်၌ ထား လေ၏။- ထာဝရ ဘုရား က
၇ သည်။ ဇလောဖဟဒ်သမီးတို့၏စကားသည်လျောက်
ပတ်ပေ၏။ အကယ်စင်စစ် သူတို့အဘ၏ ညီအစ်
ကိုတို့နှင့်အတူ အမွေခံရသောအခွင့်ကို၊ သူတို့
အားပေးရမည်၊ သူတို့အဘ၏အမွေဥစ္စာသည်၊
၈ သူတို့ လက်သို့ရောက်စေရမည်။- သင်သည်ဣ
သရေလ အမျိုးသားတို့အား၊ ဆင့်ဆိုရမည်မှာ၊
လူသည်သားယောကျ်ားမရှိဘဲသေလျှင်၊ သူ၏အ
မွေဥစ္စာကို၊ သူ၏သမီးထက်သို့ရောက်စေရမည်။-
၉ သမီးမရှိလျှင်၊ သူ၏အမွေဥစ္စာကို၊ သူ၏ညီအစ်ကို
၁၀ တို့အား ပေးရမည်။- ညီအစ်ကိုမရှိလျှင်၊ အမွေ
၁၁ ဥစ္စာကို၊ အကြီးအဒေါ်တို့အားပေးရမည်။-အ
ကြီးအဒေါ်မရှိလျှင်၊ သူ၏အဆွေအမျိုး၌ နီးစပ်
ရင်းချာ သော ပေါက်ဖော် အား ပေး ၍၊ ထိုသူ
သည်ပိုင်ရမည်။ ဤရွေကား၊ ထာဝရဘုရားသည်
မောရှေအား မှာထား တော်မူသည်အတိုင်း၊ ဣ
သရေလ အမျိုးသားတို့၌ စီရင်ထုံးဖွဲ့ချက် ဖြစ်
စေဟု၊ မောရှေအားမိန့်တော်မူ၏။
၁၂ တဖန်ထာဝရဘုရားက၊ သင်သည် ဤအာဗ
ရိမ် တောင်ပေါ်သို့ တက်လော့။ ဣသရေလအ
မျိုး သားတို့အား ငါပေးသောပြည်ကို ကြည့်ရှု
၁၃ လော့။- သို့ပြီးမှ၊ သင်၏အစ်ကိုအာရုန်သည်မိမိ
လူမျိုးစည်းဝေးရာသို့ သွားသကဲ့သို့၊ သင်သည်
၁၄ လည်းသွားရမည်။-အကြောင်းမူကား၊ ပရိသတ်
တို့သည်ဇိနတော၊ ကာဒေရှအရပ်၊ မေရိဘစမ်း
ရေအနား၌ ရုန်းရင်းခတ်ပြုကြသောအခါ၊ သင်
တို့သည်ငါ့စကားကိုဆန့်ကျင်ထက်ပြု၍၊ သူတို့
ရှေ့မှာ ငါ့ကိုမရိုမသေပြုသောအပြစ်ရှိသည်ဟု၊
၁၅-၁၇ မောရှေအားမိန့်တော်၏။-မောရှေကလည်း၊
ထာဝရဘုရား၏ ပရိသတ်တို့သည် အထိန်းမရှိ
သောသိုးကဲ့သို့မဖြစ်မည်အကြောင်း၊ ခပ်သိမ်း
သော သတ္တဝါတို့၏ အသက် ဝိညာဉ်ကို အစိုးရ
တော်မူသောဘုရား သခင်ထာဝရဘုရားသည်၊
ဤ ပရိ သတ်တို့ရှေ့၌ထွက်ဝင် နိုင်သောသူ၊ စစ်
သို့ထုတ်ခြင်း၊ အတွင်းသို့သွင်းခြင်းအမှုကိုတတ်
နိုင်သောသူတစုံတယောက်ကို၊ သူတို့အပေါ်မှာ
ခန့်ထားတော် မူပါစေသောဟု၊ ထာဝရ ဘုရား
၁၈ အားလျှောက်လေ၏၊-ထာဝရဘုရားကလည်း၊
ဝိညာဉ်တော်ကိုရသောနုန်၏သား ယောရှုကိုခေါ်

၁၉ ၍၊သင်၏လက်ကိုသူ့အပေါ်မှာတင်လော့။-ယဇ်
ပုရောဟိတ်ဧလာဇာရှေ့၊ ပရိသတ်အပေါင်း
၂၀ ထိုရှေ့၌သူ့ကိုထား၍ မှာခဲ့လော့။- ဣသရေလ
အမျိုးသားအပေါင်းတို့သည်၊သူ၏စကားကိုနား
ထောင်မည်အကြောင်း၊သင်၏ဘုန်းအသရေအ
၂၁-၂၂ ချို့ကို သူ့အပေါ်၌ တင်ထားလော့။- ထိုသူ
သည်ယဇ်ပုရောဟိတ်ဧလာဇာရှေ့မှာရပ်သော
အခါ၊ယဇ်ပုရောဟိတ်သည်၊ ထာဝရဘုရားရှေ့
တော်၌ဥရိမ်စီရင်ဆုံးဖြတ်သောတရားအတိုင်း၊
သူ့အတွက် မေးမြန်းရမည်။ သူစီရင်သည် အ
တိုင်း၊ သူ နှင့် အတူ ဣသ ရေလ အမျိုး သား ပ
ရိသတ် အပေါင်းတို့သည် ထွက်ဝင်ရကြမည်
ဟု၊ ထာဝရ ဘုရားသည် မောရှေအား မှာထား
တော်မူသည်အတိုင်း၊ မောရှေပြုလျက်၊ယောရှု
ကိုခေါ်၍၊ ယဇ် ပရော ဟိတ် ဧလာ ဇာ ရှေ့၊ပ
၂၃ ရိသတ်အပေါင်းတို့ရှေ့၌ထားပြီးလျှင်၊- သူ့အ
ပေါ်မှာလက်ကိုတင်၍မှာခဲ့လေ၏။ ထိုသို့ထာဝ
ရဘုရားသည်၊ မောရှေအားဖြင့် ပညတ်ထား
တော်မူ၏။

၂၈

၁ တဖန် မောရှေ အား ထာဝရ ဘုရားက၊ သင်
၂ သည် ဣသ ရေလ အမျိုး သားတို့အား ဆင့် ဆိုရ
မည်မှာ၊ ငါ၏ပူဇော် သက္ကာကိုငှင်၊ မွှေးကြိုင်
ကြိုင်သော အနံ့ရှိစေခြင်းငှါ မီးဖြင့် ပြုသောငါ၏
အစာအာဟာရကိုငှင်၊ အချိန်တန်မှ၊ ငါ့အားပူ
၃ ဇော်ခြင်းငှါသတိပြုရကြမည်။- တဖန်ဆင့်ဆို
ရမည်မှာ၊နေ့တိုင်းအစဉ်အမြဲမီးရှို့ရာယဇ်အဖို့၊
အခါမလည်၊ အပြစ် မပါသော သိုး သငယ်နှစ်
ကောင်ကို၊ ထာဝရဘုရားအားမီးဖြင့် ပူဇော်ရ
၄ မည်။- နံနက်ယံ၌သိုးသငယ်တကောင်၊ ညဦး
၅ ယံ၌တကောင်ကိုပူဇော်ရမည်။- သံလွင်သီးကို
ထောင်း၍၊ ရသော သံလွင်ဆီ သုံးလောဂ် နှင့်
ရောသော မုန့်ညက် တဧဖခွဲကို ထည်း ပူဇော်ရ
၆ မည်။- ဤအရာကား၊ သိနာတောင်ပေါ်မှာစီရင်
တော်မူသည် အတိုင်း၊ ထာဝရဘုရားအဖို့ မွှေး
ကြိုင်သောအနံ့နှင့်မီးဖြင့်ပြုသောပူဇော်သက္ကာ၊
အ စဉ် အ မြဲ ပြုရ သော မီး ရှို့ရာ ယဇ် ဖြစ်သ
၇ တည်း။- သိုးသငယ်တကောင်နှင့် အတူသွန်း
လောင်းရာပူဇော်သက္ကာအဖို့၊စပျစ်ရည်သုံးလော
ဂကိုပူဇော်၍၊သန့်ရှင်းရာဌာန၌၊သွန်းလောင်း
ရာပူဇော်သက္ကာအဖို့၊ ထာဝရဘုရားအား သွန်း
၈ လောင်းရမည်။- အခြားသောသိုးသငယ်ကို ညဦး
ယံ၌ပူဇော်သောအခါ၊ နံနက်ယံ၌ပူဇော်သောဘောဇဉ်
ပူဇော်သက္ကာ၊ သွန်းလောင်းရာ ပူဇော်သက္ကာ
ပါသည်နည်းတူပါလျက်၊ ထာဝရဘုရားအဖို့
မွှေးကြိုင်သော အနံ့နှင့်ပြည့်စုံ၍ မီးဖြင့် ပူဇော်
၉ သောယဇ်ကိုပြုရမည်။-နေ့တိုင်းအစဉ်ပူဇော်
၁၀ သောမီးရှို့ရာယဇ်၊ သွန်းလောင်းရာ ပူဇော်သ
က္ကာမှတပါး၊ ဥပုသ်နေ့ရက်၌ အခါမလည်၊ အ
ပြစ်မပါသောသိုးသငယ်နှစ်ကောင်ကိုငှင်၊သွန်း
လောင်းရာပူဇော် သက္ကာပါလျက်၊ ဘောဇဉ်ပူ
ဇော်သက္ကာအဖို့၊ ဆီရောသောမုန့်ညက် နှစ်ဧဖခွဲ
ကိုငှင်ပူဇော်ရမည်။
၁၁ လဆန်း တရက်နေ့၌၊ အသက်ပျိုသော နွား
ထီးနှစ်ကောင်၊သိုးထီးတကောင်၊အခါမလည်၊
အပြစ်မပါသောသိုးသငယ် ခုနစ်ကောင်တို့ကို၊
ထာဝရဘုရားအား မီးရှို့ရာယဇ်ပြု၍ပူဇော်ရ
၁၂ မည်။-နွားတကောင်အဖို့၊ဆီရောသောမုန့်ညက်
သုံးဧဖခွဲ၊ သိုးတကောင်အဖို့၊ ဆီရောသော မုန့်
၁၃ ညက်နှစ်ဧဖခွဲ၊- သိုးသငယ်တကောင်အဖို့၊ ဆီ
ရောသော မုန့် ညက် တဧဖခွဲကို ထည်းဟူသော၊
ဘောဇဉ် ပူဇော်သက္ကာ နှင့် တကွ၊ ထာဝရ
ဘုရားအား မီးဖြင့်ပူဇော်၍ မီးရှို့ရာယဇ်ကိုပြုရ
၁၄ မည်။- သွန်းလောင်းရာ ပူဇော်သက္ကာဟူမူကား၊
နွားတကောင်နှင့်စပျစ်ရည်ဝက်လောဂ၊ သိုး
တ ကောင် နှင့် လေး လောဂ၊ သိုး သငယ် တ
ကောင်နှင့် သုံးလောဂကိုပူဇော်ရမည်။ ထိုသို့
လတိုင်းအစဉ်မပြတ်၊ မီးရှို့ရာယဇ်ကို ပူဇော်
၁၅ ရမည်။- နေ့တိုင်းအစဉ် ပူဇော်သော မီးရှို့ရာ
ယဇ်၊ သွန်းလောင်းရာ ပူဇော်သက္ကာမှ တပါး၊
အပြစ်ဖြေရာယဇ်အဖို့၊ထာဝရဘုရားအား ဆိတ်
သငယ်တကောင်ကိုလည်းပူဇော်ရမည်။
၁၆ ပဌမလ၊ တဆယ် လေးရက် နေ့၌၊ ထာဝရ
၁၇ ဘုရား၏ပသခါပွဲဖြစ်၏။- ငင်လ၊ တဆယ်ငါး
ရက်နေ့၌ ပွဲကိုခံရမည်။ ခုနစ်ရက် ပတ်လုံးတ
၁၈ ဆေးမဲ့မုန့်ကိုစားရကြမည်။-ပဌမနေ့၌စည်းဝေး
ဝေးခြင်းကိုပြုရမည်။ လောကီအလုပ်ကိုမလုပ်
၁၉ ရ။- ထာဝရဘုရား အား မီးဖြင့် ပြုသော ယဇ်
တည်း ဟူသော၊ အသက်ပျိုသော နွားထီး နှစ်
ကောင်၊သိုးထီးတကောင်၊အခါမလည်၊အပြစ်မ
ပါသော သိုးသငယ် ခုနစ်ကောင်တို့ကို မီးရှို့ရာ
၂၀ ယဇ်ပြု၍ ပူဇော်ရမည်။- နွားတကောင်လျှင်၊
ဆီ ရောသော မုန့်ညက်သုံးဧဖခွဲ၊ သိုးတကောင်
၂၁ လျှင်၊ နှစ်ဧဖခွဲ၊- သိုး သငယ် ခုနစ်ကောင် ရှ

ဆောင်၊တကောင်လျှင်၊တဩဲမိစ်နှင့်ဆောစည်
၂၂ ပူဇော်သကာပြုရမည်။-အပြစ်ဖြေခြင်းကိုပြုအံ့
သောငှါ၊ အပြစ်ဖြေရာယဇ်အို ဆိတ်တကောင်
၂၃ ကိုလည်း ပူဇော်ရမည်။- နေ့ရက်အစဉ်၊နံနက်
တိုင်းပူဇော်သောမီးရှို့ရာယဇ်မှတပါး၊ ထိုယဇ်
၂၄ ရှားကို ထပ်၍ပူဇော်ရမည်။- ထိုသို့အစဉ်အမြဲ
ပူဇော်သော မီးရှို့ရာယဇ်၊ သွန်းလောင်းရာ ပူ
ဇော်သကာမှတပါး၊ခုနှစ်ရက်ပတ်လုံးတနေ့တ
နေ့လျှင်၊ ထာဝရဘုရားအမွှေးကြိုင်သောအ
နံ့နှင့်မီးဖြင့်ပြုသောပူဇော်သကာအစာအာဟာ
၂၅ ရကို ပူဇော်ရမည်။- သတ္တမနေ့၌လည်း၊ စုဝေး
စည်းဝေးခြင်းကို ပြုရမည်၊ လောကီအလုပ်ကို
မလုပ်ရ။
၂၆ ထိုမှတပါး၊ ထိတင်း ခုနှစ်သိတင်း စေ့ပြီးမှ၊
အောစည်ပူဇော် သကာ အသစ်ကို၊ ထာဝရ
ဘုရား ထံတော်သို့ဆောင်ခဲ့သောနေ့၊ အဦးသီး
သော အသီးနေ့ရက်၌ စုဝေးစည်းဝေးခြင်းကိုပြုရ
၂၇ မည်၊ လောကီ အလုပ်ကို မ လုပ် ရ။- ထာဝရ
ဘုရားအမွှေး ကြိုင်သောအနံ့နှင့်မီးရှို့ရာယဇ်
အို၊အသက်ပျိုသောနွားထီးနှစ်ကောင်၊သိုးထီး
တကောင်၊ အပြစ်မထည်သော သိုးသငယ် ခုနှစ်
၂၈ ကောင်တို့ကို ပူဇော်ရမည်။- နွား တကောင်
လျှင်၊ ဆီရောသော ရနံ့ညက်သုံးဩဲ၊ သိုးတ
၂၉ ကောင်လျှင်၊နှစ်ဩဲ၊-သိုးသငယ်ခုနှစ်ကောင်
စေ့အောင်၊ တကောင်လျှင်၊ တဩဲမိစ်နှင့်ဆော
၃၀ စည်ပူဇော်သကာပြုရမည်။- အပြစ်ဖြေခြင်း
ကို ပြုအံ့သောငှါ၊ ဆိတ်သငယ် တကောင် ကို
၃၁ လည်းပူဇော်ရမည်။- ထိုသို့အစဉ်အမြဲပူဇော်
သောမီးရှို့ရာယဇ်၊ ဆောစည် ပူဇော်သကာမှ
တပါး၊ သွန်းလောင်းရာပူဇော်သကာနှင့်တကွ၊
အပြစ်မပါသော ထိုကောင် ရှားတို့ကို ထပ်၍
ပူဇော်ရမည်။

## ၂၉

၁ သတ္တမလ၊ ပဌမနေ့ရက်၌စုဝေးစည်းဝေးခြင်း
ကိုပြုရမည်၊လောကီအလုပ်ကိုမလုပ်ရ၊ တံပိုး
၂ မှုတ်ခြင်းကိုပြုရသောနေ့ဖြစ်၏။-ထာဝရဘုရား
အမွှေးကြိုင်သောအနံ့နှင့် မီးရှို့ရာယဇ်အို၊အ
သက်ပျိုသော နွားထီး တကောင်၊ သိုး ထီးတ
ကောင်၊ အပြစ်မထည်၊ အပြစ်မပါသော သိုးသ
၃ ငယ် ခုနှစ်ကောင်တို့ကိုပူဇော်ရမည်။- နွားတ
ကောင်လျှင်၊ ဆီရောသော ရနံ့ညက် သုံးဩဲ၊
၄ သိုးတကောင်လျှင်၊နှစ်ဩဲ၊- သိုးသငယ်ခုနှစ်
ကောင်စေ့အောင်၊ တကောင်လျှင်၊တဩဲမိစ်နှင့်
၅ ဆောစည် ပူဇော်သကာပြုရမည်။- အပြစ်ဖြေ
ခြင်းကို ပြုအံ့သောငှါ၊ အပြစ်ဖြေရာ ယဇ်အို
ဆိတ်သငယ်တကောင်ကိုလည်းပူဇော်ရမည်။-
၆ ထိုသို့လုံးစံရှိသည်အတိုင်း၊ လဆန်းနေ့မီးရှို့ရာ
ယဇ်နှင့်သူ၏ဆောစည်ပူဇော်သကာ၊ နေ့တိုင်း
ပြုသောမီးရှို့ရာယဇ်နှင့်သူ၏ ဆောစည်ပူဇော်
သကာ၊ သွန်းလောင်းရာပူဇော်သကာမှတပါး၊
ထာဝရဘုရားအမွှေး ကြိုင်သော အနံ့နှင့် မီး
ဖြင့်ပြုသောယဇ်ပူဇော်သကာကိုပူဇော်ရမည်။
၇ ၎င်းလ၊ ဒသမနေ့ရက်၌၊ စုဝေးစည်းဝေးခြင်းကို
ပြု၍ပြီးခြိုးစွာကျင့်ရမည်၊ မည်သည့် အလုပ်ကိုမျှ
၈ မလုပ်ရ။-ထိုနေ့၌၊ထာဝရဘုရားအမွှေးကြိုင်
သောအနံ့နှင့် မီးရှို့ရာယဇ်အို၊ အသက်ပျိုသော
နွားထီး တကောင်၊ သိုးထီးတကောင်၊ အပြစ်မ
ထည်၊ အပြစ်မပါသောသိုးသငယ်ခုနှစ်ကောင်
၉ တို့ကို ပူဇော်ရမည်။- နွားတကောင်လျှင်၊ ဆီ
ရောသောရနံ့ညက်သုံးဩဲ၊သိုးတကောင်လျှင်၊
၁၀ နှစ်ဩဲ၊-သိုးသငယ်ခုနှစ်ကောင်စေ့အောင်၊တ
ကောင်လျှင်၊ တဩဲမိစ်နှင့်ဆောစည် ပူဇော်သ
၁၁ ကာပြုရမည်။-အပြစ်ဖြေရာယဇ်အို့လည်း၊ဆိတ်
သငယ်တကောင်ကိုပူဇော်ရမည်၊ ထိုသို့အပြစ်
ဖြေခြင်း၌ှါ အပြစ်ဖြေရာ ယဇ်၊ အစဉ်အမြဲ ပြု
သော မီးရှို့ရာယဇ်၊ သူ၏ ဆောစည် ပူဇော်သ
ကာ၊ သွန်း လောင်းရာ ပူဇော် သကာမှ တပါး၊
ထပ်၍ပြုရမည်။
၁၂ ၎င်းလ၊ တဆယ်ငါးရက်နေ့၌၊ စုဝေးစည်းဝေး
ခြင်းကိုပြုရမည်၊ လောကီအလုပ်ကိုမလုပ်ဘဲ၊ခု
နှစ်ရက်ပတ်လုံးထာဝရဘုရားအဖို့ပွဲခံရမည်။-
၁၃ ပဌမနေ့၌ ထာဝရဘုရားအဖို့၊ မွှေးကြိုင်သော
အနံ့နှင့်မီးဖြင့်ပြုသောမီးရှို့ရာယဇ်အို၊အသက်
ပျိုသော နွားထီး ဆယ်သုံးကောင်၊ သိုးထီးနှစ်
ကောင်၊ အပြစ်မထည်၊ အပြစ်မပါသောသိုးသ
၁၄ ငယ်ဆယ်လေးကောင်တို့ကိုပူဇော်ရမည်။- နွား
ဆယ်သုံးကောင်စေ့အောင်၊ တကောင်လျှင်၊ ဆီ
ရောသောရနံ့ညက်သုံးဩဲစီ၊သိုးနှစ်ကောင်စေ့
၁၅ အောင်၊တကောင်လျှင်၊ နှစ်ဩဲစီ၊- သိုးသငယ်
ဆယ်လေးကောင်စေ့အောင်၊တကောင်လျှင်၊တ
ဩဲမိစ်နှင့် ဆောစည်ပူဇော် သကာပြုရမည်။-
၁၆ အပြစ်ဖြေရာယဇ်အို့ဆိတ်သငယ်တကောင်ကို၊
အစဉ်အမြဲပြုသောမီးရှို့ရာယဇ်နှင့်ဆောစည်ပူ
ဇော်သကာ၊သွန်းလောင်းရာပူဇော်သကာမှတ

၁၇ ပါ။ ထိုမှတပါး ဒုတိယနေ့၌၊ အပြစ်
မရှိသော နွားထီး ဆယ်နှစ်ကောင်၊ သိုးထီးနှစ်
ကောင်၊ အခါမလည်၊ အပြစ်မပါသော သိုးသ
၁၈ ငယ်ဆယ်လေးကောင်ကိုင၎်၊- သိုး၊ နွား၊ သိုးသ
ငယ်အနည်း အများအလိုက်၊ ထုံးစံရှိသည် အ
တိုင်း၊ ဘောဇဉ်ပူဇော်သက္ကာ၊ သွန်းလောင်း
၁၉ ရာပူဇော်သက္ကာကိုင၎်၊- အပြစ်ဖြေရာဆိတ်ကို
ဆိတ် သငယ် တကောင်ကိုင၎်၊ အစဉ် အမြဲပြု
သောမီး၌ရှို့ရာယဇ်နှင့်ဘောဇဉ်ပူဇော်သက္ကာ၊
သွန်းလောင်းရာပူဇော်သက္ကာမှတပါး၊ ထိုမှ
၂၀ ပူဇော်ရမည်။-တတိယနေ့၌၊ နွားထီးဆယ်တ
ကောင်၊သိုးထီးနှစ်ကောင်၊အခါမလည်၊အပြစ်
မပါ သော သိုး သ ငယ် ဆယ် လေး ကောင် ကို
၂၁ င၎်၊- သိုး၊ နွား၊ သိုး သ ငယ်အနည်း အများအ
လိုက်၊ ထုံးစံရှိသည်အတိုင်း၊ ဘောဇဉ်ပူဇော်
သက္ကာ၊ သွန်းလောင်းရာ ပူဇော်သက္ကာကိုင၎်၊-
၂၂ အပြစ်ဖြေရာယဇ်ဆိတ်ကို တကောင်ကိုင၎်၊အ
စဉ်အမြဲပြုသော မီး၌ရှို့ရာယဇ်နှင့်ဘောဇဉ်ပူ
ဇော်သက္ကာ၊သွန်းလောင်းရာပူဇော်သက္ကာမှတ
၂၃ ပါး၊ ထိုမှ ပူဇော်ရမည်။-စတုတ္ထနေ့၌၊နွားထီး
ဆယ်ကောင်၊ သိုးထီးနှစ်ကောင်၊ အခါမလည်၊
အပြစ်မပါသော သိုးသငယ် ဆယ်လေး ကောင်
၂၄ ကိုင၎်၊- သိုး၊ နွား၊ သိုးသငယ်အနည်းအများ
အလိုက်၊ ထုံးစံ ရှိသည်အတိုင်း၊ ဘောဇဉ် ပူ
ဇော်သက္ကာ၊ သွန်းလောင်းရာပူဇော် သ က္ကာကို
၂၅ င၎်၊- အပြစ် ဖြေရာယဇ်ဆိတ် တကောင်ကို
င၎်၊ အစဉ်အမြဲပြုသောမီး၌ရှို့ရာယဇ် နှင့်ဘော
ဇဉ် ပူဇော်သက္ကာ၊ သွန်းလောင်းရာပူဇော်သ
၂၆ က္ကာမှတပါး၊ ထိုမှ ပူဇော်ရမည်။-ပဉ္စမနေ့၌၊
နွားထီးကိုးကောင်၊ သိုးထီးနှစ်ကောင်၊ အခါမ
လည်၊ အပြစ်မပါသော သိုးသငယ်ဆယ်လေး
၂၇ ကောင်ကိုင၎်၊- သိုး၊ နွား၊ သိုးသငယ် အနည်း
အများ အလိုက်၊ ထုံးစံ ရှိသည်အတိုင်း၊ ဘော
ဇဉ် ပူဇော်သက္ကာ၊ သွန်းလောင်းရာပူဇော်သ
၂၈ က္ကာ ကို င၎်၊- အပြစ် ဖြေရာ ယဇ် ဆိတ် သ
ငယ် တကောင်ကိုင၎်၊ အစဉ် အမြဲပြုသောမီး
၌ရှို့ရာ ယဇ်နှင့် ဘောဇဉ် ပူဇော် သက္ကာ၊ သွန်း
လောင်း ရာ ပူဇော် သက္ကာ မှ တပါး၊ ထိုမှ ပူ
၂၉ ဇော်ရမည်။- ဆဋ္ဌမနေ့၌၊ နွားထီး ရှစ်ကောင်၊
သိုးထီးနှစ်ကောင်၊အခါမလည်၊အပြစ်မပါသော
၃၀ သိုးသငယ်ဆယ်လေးကောင်ကိုင၎်၊-သိုး၊ နွား၊
သိုးသငယ်အနည်းအများအလိုက်၊ထုံးစံရှိသည်
အတိုင်း၊ဘောဇဉ်ပူဇော်သက္ကာ၊သွန်းလောင်း
၃၁ ရာပူဇော်သက္ကာကိုင၎်၊- အပြစ်ဖြေရာယဇ်ဆိတ်
ဆိတ်တကောင်ကိုင၎်၊ အစဉ်အမြဲ ပြုသောမီး
၌ရှို့ရာယဇ်နှင့် ဘောဇဉ်ပူဇော်သက္ကာ၊ သွန်း
လောင်းရာပူဇော်သက္ကာမှတပါး၊ ထိုမှပူဇော်
၃၂ ရမည်။-သတ္တမနေ့၌၊နွားထီးခုနစ်ကောင်၊သိုး
ထီးနှစ်ကောင်၊ အခါမလည်၊ အပြစ်မပါသော
၃၃ သိုး သ ငယ် ဆယ် လေး ကောင် ကို င၎်၊- သိုး၊
နွား၊ သိုးသငယ်အနည်းအများအလိုက်၊ ထုံးစံရှိ
သည်အတိုင်း၊ ဘောဇဉ်ပူဇော်သက္ကာ၊ သွန်း
၃၄ လောင်းရာပူဇော်သက္ကာကိုင၎်၊- အပြစ်ဖြေရာ
ယဇ်ဆိတ် တကောင်ကိုင၎်၊ အစဉ် အမြဲပြု
သောမီး၌ရှို့ရာယဇ်နှင့်ဘောဇဉ် ပူဇော်သက္ကာ၊
သွန်းလောင်းရာပူဇော်သက္ကာမှတပါး၊ ထိုမှပူ
၃၅ ဇော်ရမည်။- အဋ္ဌမနေ့၌၊စည်းဝေးခြင်းကို
၃၆ ပြုရမည်။ လောကီအလုပ်ကိုမလုပ်ရ။- ထိုနေ့၌
ထာဝရဘုရား အဖို့၊ မွှေးကြိုင်သော အနံ့နှင့် မီး
ဖြင့်ပြုသောမီး၌ရှို့ရာယဇ်ကို၊ နွားထီးတကောင်၊
သိုးထီးတကောင်၊အခါမလည်၊အပြစ်မပါသော
၃၇ သိုးသငယ် ခုနစ်ကောင်ကိုင၎်၊- သိုး၊ နွား၊ သိုး
သငယ်အနည်းအများအလိုက်၊ ထုံးစံရှိသည်အ
တိုင်း၊ ဘောဇဉ်ပူဇော်သက္ကာ၊ သွန်းလောင်း
၃၈ ရာပူဇော် သက္ကာကိုင၎်၊- အပြစ်ဖြေရာယဇ်ဆိတ်
ဆိတ်တကောင်ကိုင၎်၊ အစဉ်အမြဲ ပြုသောမီး
၌ရှို့ရာယဇ်နှင့် ဘောဇဉ် ပူဇော်သက္ကာ၊ သွန်း
လောင်းရာပူဇော်သက္ကာမှတပါး၊ ထိုမှပူဇော်
၃၉ ရမည်။-ထိုသို့ သစ္စာဂတိမှ၍ ပြုသောပူဇော်သ
က္ကာ၊ အလိုလိုပြုသောပူဇော်သက္ကာ၊ မီး၌ရှို့ရာပူ
ဇော် သက္ကာ၊ ဘောဇဉ် ပူဇော် သက္ကာ၊ သွန်း
လောင်းရာ ပူဇော်သက္ကာ၊ မိဿဟာယပူဇော်
သက္ကာမှတပါး၊ မှန်ချက်သော ပွဲထိုင်၌ ထာဝရ
ဘုရားအား ထိုမှ ပူဇော်ရမည်ဟု မိန့်တော်မူ
၄၀ ၏။-ထိုသို့မောရှေသည်၊မိမိအား ထာဝရဘုရား
မှာထား တော် မူသမျှထိုကို၊ ဣသရေလ အမျိုး
သားတို့အား ဆင့်ဆိုလေ၏။

၃၀

၁ ထိုနောက် ထာဝရဘုရား မိန့်တော်မူသောစကား
ကို မောရှေသည်၊ ဣသရေလအမျိုးသားတို့တွင်
အမျိုး အနွယ် တို့၌ မင်းဖြစ်သော သူတို့ အား
၂ ဆင့်ဆိုသည်ကား၊-လူယောက်ျားသည်ထာဝ
ရဘုရားအား သစ္စာဂတိပြုတော်မူ၍၊ ကိုယ်စိတ်
ဖိညှဉ်းခြင်းအကျင့်ကို ကျင့်မည်ဟု ကျိန်ဆိုခြင်းကိုပြုသော်

ရှင်၊ မိမိပြောသော စကားကိုမကွယ်ထဲ၊ မိမိနှုတ်ထွက်ရှိသည်အတိုင်းပြုရမည်။

၄ မိန်းမသည် အမဘိမ်၌အသက်ငယ်စဉ်အခါ၊ ထာဝရဘုရား၏ အား သစ္စာ ဂတိပြု သော် ရှင်၊
၅ ကိုယ်၌ ကိုယ် ချည်နှောင် သော်ငှင်၊- ထိုသစ္စာစကား၊ ကိုယ်စိတ်ဝိညာဉ်၌ ချည်နှောင်သော စကားကို၊ အဖသည်ကြားလျက်တိတ်ဆိတ်စွာ နေလျှင်၊ ထိုသစ္စာစကားရှိသမျှတို့နှင့်ကိုယ်စိတ်ဝိညာဉ်၌ ချည်နှောင်သော စကား ဟူသမျှ တို့
၆ သည်တည်ရကြမည်။- သို့မဟုတ်၊ အဖသည် ကြားသောနေ့၌ မြစ်တားလျှင်၊ ထိုသစ္စာစကားမည်မျှ၊ ကိုယ်စိတ်ဝိညာဉ်၌ ချည်နှောင်သော စကားမည်မျှ မတည်ရ။ အဖ မြစ်တား သောကြောင့်၊ ထာဝရဘုရားလွှတ်တော်မူမည်။
၇ မိန်းမသည်၊ ထင်ရှိလျက်၊ သစ္စာဂတိပြု၍ကိုယ်စိတ်ဝိညာဉ်၌ချည်နှောင်ခြင်းငှါ နှုတ်မြွက်သော
၈ အခါ၊- ထင်သည်ကြားလျှင်ငှင်၊ ကြားသောနေ့၌တိတ်ဆိတ်စွာ နေလျှင်ငှင်၊ ထိုသစ္စာ စကား၊ ကိုယ်စိတ်ဝိညာဉ်၌ချည်နှောင်သော စကားတည်
၉ ရမည်။- သို့မဟုတ်၊ ထင်သည်ကြားသောနေ့၌ မြစ်တားလျှင်၊ ထိုသစ္စာစကား၊ ကိုယ်စိတ်ဝိညာဉ်၌ချည်နှောင်သော စကားကို ထင်သည်ပယ်၍၊ ထာဝရဘုရားသည်လွှတ်တော်မူမည်။
၁၀ ထင်သေသောမိန်းမ၊ ထင်နှင့်ကွာသောမိန်းမသည် ကိုယ်စိတ်ဝိညာဉ်၌ချည်နှောင်သောသစ္စာဂတိ
၁၁ အလုံးစုံတို့သည် တည်ရကြမည်။- ထင်အိမ်၌ ရှိစဉ် အခါ၊ သစ္စာ ဂတိပြုသော်ငှင်၊ ကျိန်ဆိုခြင်းအားဖြင့် ကိုယ်စိတ် ဝိညာဉ်၌ ချည်နှောင်
၁၂ သော်ငှင်၊- ထင်သည်ကြားသော်လည်း၊ မမြစ်တား၊ တိတ်ဆိတ်စွာနေလျှင်၊ ထိုသစ္စာဂတိရှိသမျှ၊ ကိုယ်စိတ်ဝိညာဉ်၌ ချည်နှောင်ခြင်းရှိသမျှ
၁၃ တို့သည်တည်ရကြမည်။- သို့မဟုတ်၊ လင်သည် ကြားသောနေ့၌ ရှင်းရှင်းပယ်ဘူးလျှင်၊ သစ္စာဂတိနှင့်ငှင်၊ စိတ်ဝိညာဉ်၌ ချည်နှောင်ခြင်းနှင့်ငှင် ဆိုင်သော စကားမည်မျှ မတည်ရ။ လင်သည် ပယ်သောကြောင့်၊ ထာဝရဘုရားလည်း လွှတ်
၁၄ တော်မူမည်။- ခပ်သိမ်းသောသစ္စာဂတိ၊ ငြိုးငြင်စွာကျင့်ခြင်းနှင့်ဆိုင်သမျှသောအချည်အနှောင် ကျိန်ဆိုခြင်းတို့ကို၊ ထင်သည်တည်စေပိုင်သော
၁၅ အခွင့်၊ ပယ်ပိုင်သောအခွင့်ရှိ၏။- ထင်သည် တနေ့ထက်တနေ့တိတ်ဆိတ်စွာနေလျှင်၊ မယားပြုသော သစ္စာဂတိ ရှိသမျှ တို့နှင့် မယား၌ ချည်နှောင်ခြင်းရှိသမျှတို့ကိုတည်စေ၏။ ကြားသော နေ့၌ တိတ်တိတ်ဆိတ်စွာ နေသောကြောင့် တည်စေ
၁၆ ပြီ။- ထိုစကားကို ကြားသောနေ့နောက်မှ၊ ထင်သည်ပယ်ထံ့သောငှါ ပြုလျှင်၊ မယားအပြစ်ကို ကိုယ်တိုင်ခံရမည်။- ဤရွေ့ကား၊ မယားနှင့်ထင် စပ်ကြား၌ငှင်၊ အဖအိမ်မှာအသက်ငယ်သော သမီးနှင့် အဖ စပ်ကြား၌ငှင်၊ မောရှေ အားမြွက်ထာဝရဘုရား ထားတော်မူသော ပညတ်တရား ဖြစ်သတည်း။

၃၁

၁ တဖန်ထာဝရဘုရားက၊ မိဒျန်အမျိုးသားတို့
၂ သည်ဣသရေလအမျိုးသားတို့ကိုပြစ်မှားသော အပြစ်အလျောက်၊ ဣသရေလအမျိုးသားဘက်၌နေ၍တရားစီရင်လော့။ ထိုပြီးမှ၊ သင်သည်မိမိလူမျိုး စည်းဝေးရာသို့ သွားရမည်ဟု၊ မောရှေ
၃ အားမိန့်တော်မူ၏။- မောရှေသည်လည်း၊ လူများတို့ကိုခေါ်၍၊ အချို့တို့သည်လက်နက်ကို ကိုင်လျက်၊ မိဒျန် အမျိုးသား တို့သို့စစ်ချီ၍ ထာဝရ
၄ ဘုရားဘက်၌တရားစီရင်စေ။- ဣသရေလအမျိုးအနွယ်တို့တွင်တမျိုးတမျိုးထဲက၊ လူတထောင်
၅ စီရွေး၍ စစ်ချီစေဟုစီရင်သည်အတိုင်း။- ဣသရေလအမျိုးသား အထောင် အသောင်းတို့တွင် တမျိုးတမျိုးထဲက၊ စစ်တိုက်လက်နက် ပါသော သူတထောင်စီ၊ လူပေါင်း၊ တသောင်းနှစ်ထောင်
၆ ကိုအပ်၍၊- မောရှေသည်ထိုသူတို့ကိုငှင်၊ သန့်ရှင်းသော လက်နက်နှင့် တကွ၊ မှုတ်ရာတံပိုးတို့ကို ကိုင်သော ယဇ်ပုရောဟိတ် ဧလာဇာ သားဖိ
၇ နဟတ်ကိုငှင် စစ်ချီစေ၏။- မောရှေ အား ထာဝရဘုရား မှာထားတော်မူသည်အတိုင်း၊ ထိုသူတို့သည် မိဒျန် အမျိုးသားတို့ကို တိုက်၍ ယောကျာ်းအပေါင်းတို့ကိုသတ်ကြ၏။- အသေ
၈ သတ်ခြင်းကိုခံရသောသူတို့တွင်ဧဝိ၊ ရေကင်၊ ဇုရ၊ ဟုရ၊ ရေဘတည်းဟူသော၊ မိဒျန်မင်းကြီးငါးပါးပါကြ၏။ ဗောရသားဗာလမ်ကိုလည်း၊ ထား
၉ နှင့်သတ်ကြ၏။- ဣသရေလအမျိုးသားတို့သည်၊ မိဒျန်မိန်းမများ၊ သူငယ်များတို့ကိုလက်ရသိမ်းယူ၍၊ သိုး၊ ဆိတ်၊ နွားအစရှိသောဥစ္စာအလုံးစုံတို့
၁၀ ကိုလုယူကြ၏။- မိဒျန်အမျိုးသားတို့နေသောမြို့
၁၁ ရွာရှိသမျှတို့ကိုမီးရှို့ကြ၏။- ဖမ်းရသောလူ၊ တိရစ္ဆာန်နှင့် တကွ၊ လက်ရဥစ္စာ အလုံးစုံတို့ကို
၁၂ သိမ်းသွား၍၊ မောဘလွင်ပြင်ယော်ဒန်မြစ်နားယေရိခေါမြို့တဘက်၌တပ်ချလျက်နေသောမော-

ရှု၊ ယဇ်ပရောဟိတ်ဧလာဇာ၊ ဣသရေလအ
မျိုးသားပရိသတ်တို့ထံသို့ဆောင်ခဲ့ကြ၏။
၁၃ မောရှေနှင့် ယဇ်ပရောဟိတ်ဧလာဇာမှစ၍၊
ပရိသတ် တို့၌ မင်း အပေါင်း တို့သည် ကြိုဆို
၁၄ ခြင်းငှါ တပ်ပြင်သို့ ထွက်သွားကြ၏။- မောရှေ
သည်၊ စစ်တိုက်ရာမှပြန်လာသောတပ် မှူးများ၊
၁၅ ဗိုလ် မင်း များ တို့ကို အမျက် ထွက်၍၊- သင်တို့
သည် မိန်း အပေါင်း တို့ကို အဘယ် ကြောင့် အ
၁၆ သက် ရှင်စေကြသနည်း။- ဣသရေလအမျိုးသား
တို့သည်၊ ပေဂုရဘုရားအမှု၌ထာဝရဘုရားကို
ပြစ်မှားစေခြင်းငှါ၊ ဤမိန်းတို့သည်၊ ဗာလမ်ပေး
သော အကြံကို လိုက်၍ ပြုကြသော ကြောင့်၊
ထာဝရ ဘုရား၏ ပရိသတ်၌ ဘေး ရောက် သော
၁၇ သည်တကား။- ထိုကြောင့်၊ သူငယ်ယောကျ်ား
အပေါင်း ကို၎င်၊ ယောကျ်ားနှင့် ဆက် ဆံဘူး
သော မိန်း အပေါင်း ကို၎င်၊ သတ် ကြလော့။-
၁၈ ယောကျ်ားနှင့် မဆက် ဆံဘူးသော မိန်းငယ်အ
ပေါင်းတို့ကို၊ မိမိတို့အဖို့ အသက်ချမ်းသာ ပေး
၁၉ ကြလော့။- သင်တို့သည်ခုနစ်ရက်ပတ်လုံးတပ်
ပြင်မှာ နေရကြမည်။ လူကို သတ်သောသူ၊ အ
သေ ကောင်ကို ထိသောသူအပေါင်းတို့၊ ကိုယ်
ကို၎င်၊ သိမ်းယူသောသူတို့ကို၎င်၊ တတိယနေ့၊
၂၀ သတ္တမ နေ့၌ စင်ကြယ် စေကြ လော့။- သင်တို့
အဝတ်နှင့် သားရေတန်ဆာ ရှိသမျှ၊ ဆိတ်မွေး
ဖြင့် ရက်သော အရာ၊ သစ်သားဖြင့် လုပ်သော
အရာရှိသမျှတို့ကို စင်ကြယ်စေကြလော့ဟု မှာ
ထားလေ၏။
၂၁ ယဇ်ပရောဟိတ် ဧလာဇာ သည်လည်း၊ စစ်
တိုက် သွားသော စစ်သူရဲ တို့ကိုခေါ်၍၊ မော
ရှေ၌ ထာဝရဘုရား ထားတော်မူသော ပညတ်
၂၂ တရားဟူမူကား၊- ရွှေ၊ ငွေ၊ ကြေးဝါ၊ သံ၊ ကြေး
၂၃ ဖြူ၊ ခဲ အစရှိသော၊-မီးကို ခံနိုင်သောအရာရှိသမျှ
တို့ကိုမီးအထဲသို့ သွားစေသဖြင့် စင်ကြယ်စေ
ရမည်။ သို့ရာတွင်၊ စင်ကြယ် စေသော ရေဖြင့်
လည်း၊ စင်ကြယ်စေရမည်။ မီးမခံနိုင်သောအ
ရာရှိသမျှတို့ကို ရေအထဲသို့ သွားစေရမည်။-
၂၄ သတ္တမနေ့၌မိမိအဝတ်ကိုလျှော်ပြီးမှ၊စင်ကြယ်
ခြင်းရှိ၍၊ တပ်ထဲသို့ ဝင်ရကြမည်ဟု မှာထား
လေ၏။
၂၅ ထာဝရ ဘုရားကလည်း၊ သင်နှင့် ယဇ်ပရော
၂၆ ဟိတ် ဧလာဇာ၊- ပရိသတ် အဆွေ အမျိုးသူ
ကြီးတို့သည်၊ယခုထက်ရသိမ်းယူခဲ့သော ဥစ္စာ၊
၂၇ လူ၊ တိရိစ္ဆာန် အပေါင်း တို့ကို ယူ၍၊- ထက်
ဝက်ခွဲပြီးလျှင်၊တဝက်ကိုစစ်မှုထမ်း၍အတိုက်
သွားသောသူတို့အား၎င်၊ တဝက်ကိုပရိသတ်
၂၈ အပေါင်းတို့အား၎င် ဝေပေးလော့။- စစ်တိုက်
သွားသောစစ်သူရဲတို့သည်၊ထာဝရဘုရားအား
ပေးရသော အခွန်ကို ခွဲ၍ လူ၊ နွား၊ မြည်း၊ သိုးအ
ကောင်ငါးရာတွင် တကောင်ကို ကောက်ယူပြီး
၂၉ လျှင်၊-ငါတို့ခံရသောထက်ဝက်အဖို့ထဲက နှုတ်
၍၊ ထာဝရဘုရားရှေ့တော်၌၊ ချီးမြှောက်ရာပူ
ဇော်သကာပြုဖို့ရာ၊ ယဇ်ပရောဟိတ်ဧလာဇာ
၃၀ အားပေးရမည်။- ဣသရေလ အမျိုးသား ခံရ
သောထက်ဝက်အဖို့ထဲကလည်း၊ လူ၊နွား၊မြည်း၊
သိုးအစ ရှိသော တိရိစ္ဆာန် မျိုး အကောင် ငါး
ဆယ်တို့တွင်တကောင်ကိုကောက်ယူ၍၊ထာဝ
ရဘုရား၏တဲတော်ကို စောင့်သောလေဝိသားတို့
၃၁ အားပေးရမည်ဟု၊-မောရှေအားထာဝရဘုရား
မှာထားတော်မူသည်အတိုင်း၊မောရှေနှင့်ယဇ်
ပရောဟိတ်ဧလာဇာတို့သည်ပြုလေ၏။
၃၂ စစ်သူရဲ တို့သည် လက်ရ သိမ်းယူခဲ့၍ ကျန်
ကြွင်းသော ဥစ္စာပေါင်းကား၊ သိုး ခြောက်သိန်း
၃၃ ခုနစ် သောင်း ငါးထောင်၊- နွား ခုနစ် သောင်း
၃၄ နှစ် ထောင်၊- မြည်း ခြောက် သောင်း တ ထောင်၊-
၃၅ ယောကျ်ား နှင့် မဆက် ဆံ ဘူး သော မိန်း သုံး
၃၆ သောင်း နှစ် ထောင် ရှိသ တည်း။- စစ် တိုက်
သွားသောသူတို့ခံရသော ထက်ဝက်အဖို့ကား၊
သိုး သုံးသိန်း သုံးသောင်း ခုနစ်ထောင် ငါးရာ ရှိ
၃၇ သည်ဖြစ်၍၊-ထာဝရဘုရားခံရသောအခွန်ကား၊
သိုး ခြောက်ရာ ခုနစ်ဆယ် ငါး ကောင် တည်း။-
၃၈ နွားသုံးသောင်း ခြောက်ထောင် ရှိသည်ဖြစ်၍၊
ထာဝရဘုရား ခံ ရသောအခွန်ကား၊ နွားခုနစ်
၃၉ ဆယ်နှစ်ကောင်တည်း။-မြည်းသုံးသောင်းငါးရာ
ရှိသည်ဖြစ်၍၊ ထာဝရဘုရား ခံရသော အခွန်
၄၀ ကား၊ မြည်းခြောက်ဆယ်တကောင်တည်း။-လူတ
သောင်း ခြောက်ထောင် ရှိသည်ဖြစ်၍၊ ထာဝရ
ဘုရား ခံရသော အခွန် ကား၊ လူသုံး ဆယ်နှစ်
၄၁ ယောက်တည်း။- ထာဝရဘုရားမှာထားတော်
မူသည် အတိုင်း၊ မောရှေသည် ရှေ့ တော်၌ ချီး
မြှောက်ရာပူဇော်သကာပြုဖို့ရာ အခွန်ကို ယဇ်
၄၂ ပရောဟိတ် ဧလာဇာအားအပ်ပေးလေ၏။- တ
ဖန်စစ်တိုက်သောသူတို့လက်မှ မောရှေထုတ်၍၊ဣ
သရေလ အမျိုးသား၊- ပရိသတ်တို့ ခံရသော
ထက်ဝက်အဖို့ကား၊ သိုးသုံးသိန်းသုံးသောင်း

၄၄ ခုနှစ်ထောင်ငါးရာ၊- မြည်းသုံးသောင်း ခြောက်
၄၅၊၄၆ ထောင်၊- မြို သုံး သောင်း ငါး ရာ၊- လူ တ
၄၇ သောင်း ခြောက် ထောင် ရှိသည် ဖြစ်၍၊- ဣသ
ရေလအမျိုးသား ခံရသော ထက်ဝက် အဖို့ လူ
တိရိစ္ဆာန်အကောင် ငါးဆယ်တို့တွင် တကောင်
ကို မောရှေ ကောက်ယူ၍၊ ထာဝရ ဘုရား၏ တဲ
တော်ကို စောင့်သော လေဝိသားတို့အား ပေး၏၊
ထိုသို့ထာဝရဘုရားမှာထားတော်မူ၏။
၄၈ လူတရား၊တထောင်ကိုအုပ်သောတပ်မှူးများ၊
မိုလ်များ တို့သည်လည်း၊ မောရှေထံသို့ ချဉ်း
၄၉ ကပ်၍၊-ကိုယ်တော်ကျွန်တို့သည်အုပ်သောစစ်
သူရဲတို့ကိုစာရင်းယူပြန်၍၊ လူထယောက်မျှမ
၅၀ လျော့ပါ၊-ထို့ကြောင့်၊ထာဝရဘုရားရှေ့တော်၌
အသက် အဖိုးကို ဖြေဖို့ရာ၊ လူ အသီး အသီး ရ
သောရွှေတန်ဆာ၊လည်ဆွဲ၊လက်ကောက်၊လက်
စွပ်၊နားတောင်း၊နှာခေါင်းဆွဲဘူးတို့ကိုထာဝရ
ဘုရား အား ပူဇော် လျက် ဆောင် ခဲ့ပါ ပြီ ဟု
၅၁ လျှောက်ဆိုလျှင်၊- မောရှေနှင့်ယဇ်ပုရောဟိတ်
ဧလာဇာတို့သည်၊ ထိုရွှေတည်း ဟူသော၊လုပ်
၅၂ ပြီးသော တန်ဆာရှိသမျှတို့ကို ခံယူကြ၏။- ထို
၅၃ သို့စစ်သူရဲ အသီး အသီး တို့ သည် မိမိတို့ အဖို့
သိမ်းယူ၍၊ တပ်မှူးများ၊ မိုလ်များတို့သည်ထာ
ဝရဘုရားအားပူဇော်သော ရွှေမှိန်ပေါင်းကား၊
တရာခြောက်ဆယ် ခုနှစ်ဗိဿာနှင့် အကျပ်ငါး
၅၄ ဆယ်ရှိသတည်း။- တပ်မှူးများ၊ မိုလ်များပူဇော်
သော ရွှေကို မောရှေနှင့်ယဇ်ပုရောဟိတ်ဧလာ
ဇာတို့သည်ယူ၍၊ ဣသရေလအမျိုးသားတို့ကို
ထာဝရဘုရားအောက်မေ့တော်မူဖို့ရာပရိသတ်
စည်းဝေးရာတဲတော်၌သွင်းထားကြ၏။

၃၂

၁ ရုဗင်အမျိုးသားနှင့် ဂဒ်အမျိုးသားတို့သည်၊
အလွန်များပြားသောတိရိစ္ဆာန်တို့နှင့်ကြွယ်ဝ
သည်ဖြစ်၍၊ ယာဇာပြည်၊ ဂိလဒ်ပြည်တို့၌တိ
ရိစ္ဆာန် ကျက်စား စရာအို့ ကောင်းသည်ကို မြင်
၂ ကြလျှင်၊- မောရှေနှင့် ယဇ်ပုရောဟိတ် ဧလာ
ဇာအစရှိသော၊ပရိသတ်တို့တွင်မင်းများတို့ထံ
၃ သို့လာ၍၊-အတရုတ်၊ဒိဘုန်၊ယာဇာ၊နိမရ၊ဟေ
ရှဘုန်၊ ဧလာလေ၊ ရှေဗံ၊ နေဗော၊ ဗောနတည်း
၄ ဟူသော၊- ဣသရေလပရိသတ်ရှေ့မှာထာဝရ
ဘုရား လုပ်ကြံတော်မူသော ဤပြည်သည်၊ တိ
ရိစ္ဆာန်နှင့်တော်လျော်ပါ၏၊ကိုယ်တော်ကျွန်တို့
၅ ၌သည်း၊ တိရိစ္ဆာန်များပြားပါ၏။- သို့ဖြစ်၍၊
ကျွန်တော် တို့သည် ရှေ့တော်၌ မျက်နှာ ရလျှင်၊
ဤပြည်ကို ကိုယ်တော်ကျွန်တို့ အား အပိုင်ပေး
တော်မူပါ။ကျွန်တော်တို့ကိုယော်ဒန်မြစ်တဖက်
သို့ပို့ဆောင်တော်မမူပါနှင့်ဟု လျှောက်ကြ၏။-
၆ မောရှေကလည်း၊သင်တို့သည်ဤအရပ်၌နေရစ်
၍၊သင်တို့ညီအစ်ကိုများတို့သည်စစ်တိုက်သွား
၇ ရမည်လော။- ထာဝရဘုရားပေးတော်မူသော
ပြည်သို့ ဣသရေလအမျိုးသားတို့သည်မကူးမ
သွားမည် အကြောင်း၊ သူတို့စိတ်ကို အဘယ်
၈ ကြောင့်ဖျက်ကြသနည်း။- ပြည်တော်ကိုကြည့်
ရှုစေခြင်းငှါ၊ သင်တို့အဘတို့ကို ကာဒေရှဗာနာ
အရပ်ကစေလွှတ်သောအခါ၊ထိုသို့ပြုကြ၏။-
၉ ဧရှကောလ ချောင်းသို့ သွား၍၊ ပြည် တော်ကို
ကြည့်မြင်ပြီးမှ၊ထာဝရဘုရားပေးတော်မူသော
ပြည်သို့ ဣသရေလအမျိုးသားတို့သည် မသွား
၁၀-၁၂ မည်အကြောင်း၊သူတို့စိတ်ကိုဖျက်ကြ၏။- ထို
အခါ၊ ထာဝရဘုရားသည် အမျက်တော် ထွက်
လျက်၊ အကယ်စင်စစ်အခါပြတ်၊ ဣဇာတ်၊ ယာ
ကုပ်တို့အား ငါကျိန်ဆို၍ ပေးသောပြည်ကို၊ အဲ
ဂုတ္တုပြည်မှ ထွက်လာသောသူတို့တွင်ကေနက်
အမျိုးယေဖုန္နာ၏သား ကာလက်နှင့်နုန်၏သား
ယောရှုမှတပါး၊ အဘယ်သူမျှ ငါနောက်သို့လုံး
လုံးမလိုက်သောကြောင့်၊အသက်နှစ်ဆယ်လွန်
သောသူ တစုံ တယောက်မျှ မမြင်ရ။ ထိုသူ နှစ်
ယောက်သာ ထာဝရဘုရား နောက်သို့ လုံးလုံး
၁၃ လိုက်ကြပြီဟုကျိန်ဆိုတော်မူ၏။-ထိုသို့ထာဝရ
ဘုရားရှေ့တော်၌ဆိုးသောအမှုကိုပြုသောလူအ
ပေါင်းတို့သည် မပျက်စီးမှီတိုင်အောင်၊ ထာဝရ
ဘုရား သည် ဣသရေလ အမျိုးသားတို့ကို အ
မျက်ထွက်၍ အနှစ်လေးဆယ်ပတ်လုံးတော၌
၁၄ လှည့်လည်စေတော်မူ၏။- ယခုမူကား၊ထာဝရ
ဘုရားသည် ဣသရေလအမျိုးသားတို့ကိုသာ၍
ပြင်းစွာအမျက်တော်ထွက်စေမည်အကြောင်း၊
သာ၍ဆိုးသောသူတည်းဟူသော၊ သင်တို့သည်
သင်တို့ အဘ များ ကိုယ်စား ပေါ်ထကြ ပြီ တ
၁၅ ကား။- သင်တို့သည်နောက်တော်သို့မလိုက်ဘဲ
လွှဲသွားကြလျှင်၊ တဖန်ဣသရေလ အမျိုးသား
တို့ကိုတော၌စွန့်ပြစ်တော်မူသဖြင့်၊ သင်တို့သည်
ဤလူမျိုးအပေါင်းကို ဖျက်ဆီး ကြလိမ့်မည်ဟု၊
ဂဒ်အမျိုးသား၊ ရုဗင်အမျိုး သားတို့ အားပြန်
ပြော၏။
၁၆ ထိုသူ တို့သည်၊ အနီးပေါ်သို့ ချဉ်းကပ်၍၊

ကျွန်တော်တို့သည်ကျွန်တော်တို့တိရိစ္ဆာန်များ
အဖို့ ဤအရပ်၌ သိုးခြံတို့ကိုရှင်၊ ကျွန်တော်တို့
၁၇ သူငယ်များအဖို့မြို့တို့ကိုရှင် တည်ပါမည်။-သို့
ရာတွင်၊ ဣသရေလ အမျိုးသားတို့ကို သူတို့နေ
ရာအရပ်သို့ မပို့ မဆောင်မှီ တိုင်အောင်၊ ကျွန်
တော်တို့သည် ထက်နက်ကိုင်လျက်၊ သူတို့ရှေ့
မှာသွားပါမည်။ဤပြည်၌ကျန်ကြွင်းသေးသော
သူ တို့ကြောင့်၊ ကျွန်တော်တို့ သူငယ်များသည်
၁၈ ခိုင်ခံ့သောမြို့၌နေရပါမည်။- ဣသရေလအမျိုး
သားအပေါင်းတို့သည် အမွေခံရသောမြေကိုမ
ဝင်စားမှီတိုင်အောင်၊ ကျွန်တော်တို့သည်ကိုယ်
၁၉ အိမ်သို့ မပြန် ထသောပါ။- ကျွန်တော် တို့သည်
ယော်ဒန်မြစ်တဖက်၌သူတို့နှင့်အတူ အမွေကိုမ
တောင်းမခံပါ၊ ကျွန်တော်တို့အမွေခံရာ မြေသည်
ယော် ဒန် မြစ် အရှေ့ ထက် ၌ ကျပါ သည် ဟု
၂၀ လျှောက်ပြန်ကြ၏။- မောရှေကလည်း၊ သို့ဖြစ်
၍၊ သင်တို့သည်ထာဝရဘုရားရှေ့တော်၌ထက်
၂၁ နက်ကိုင်လျက်စစ်တိုက်သွားလျှင်ရှင်၊-ထာဝရ
ဘုရားသည်ရန်သူတို့ကိုရှေ့တော်မှနှင်ထုတ်၍၊
၂၂ ထိုပြည်ကိုအောင်တော်မမူမှီတိုင်အောင်၊-သင်
တို့ရှိသမျှသည် လက်နက်ကိုင်လျက်၊ ထာဝရ
ဘုရားရှေ့ တော်၌ ယော်ဒန်မြစ် တဖက်သို့ ကူး
သွားလျှင်ရှင်၊ထိုနောက်မှ၊ထာဝရဘုရားရှေ့၊ဣ
သရေလ အမျိုး သား ရှေ့ ၌ အ ပြစ် ကင်း လွတ်
လျက်၊ ဤပြည်သို့ပြန်လာ၍ထာဝရဘုရားအ ခွင့်
၂၃ နှင့် အမွေခံရကြမည်။- ထိုသို့မပြုလျှင် မူကား၊
သင်တို့သည် ထာဝရ ဘုရားကို ပြစ်မှားခြင်းရှိ
သည့်အတိုင်း၊ထိုအပြစ်သည်သင်တို့ကိုလိုက်၍
၂၄ မှီလိမ့်မည်။- သူငယ်များအဖို့မြို့တို့ကိုရှင်၊သိုး
များအဖို့ သိုးခြံ တို့ကိုရှင်၊ တည်လုပ်ကြလော့၊
သစ္စာပြောသမျှအတိုင်းပြုကြလော့ဟု ဆိုလျှင်၊-
၂၅ ဂဒ်အမျိုးသားနှင့်ရုဗင်အမျိုးသားတို့က၊ကိုယ်
တော် ကျွန်တို့သည် သခင် မိန့်တော် မူသည် အ
၂၆ တိုင်း ပြုပါမည်။- ကျွန်တော်တို့မယား သားသူ
ငယ်များနှင့် သိုးနွားအလုံးစုံတို့သည် ဤအရပ်၊
၂၇ ဂိလဒ်မြို့တို့၌ နေရစ်ရပါမည်။- ကိုယ်တော်ကျွန်
အပေါင်းတို့ မူကား၊ သခင် မိန့်တော်မူသည်အ
တိုင်း၊ လက်နက်ကိုင်လျက် ထာဝရဘုရားရှေ့
တော် ၌ စစ်တိုက် ခြင်းငှါ ကူးသွား ပါ မည် ဟု
၂၈ လျှောက် ထားကြ၏။- ထိုအကြောင်း၊ မောရှေ
သည် ယဇ်ပုရောဟိတ် ဧလာဇာ၊ နုန်၏ သား
ယောရှုအစရှိသော၊ ဣသရေလအမျိုးသား ကာ

၂၉ မွေ့ အမျိုး သူကြီးများတို့ကိုခေါ်၍၊-ဂဒ်အမျိုး
သားနှင့်ရုဗင်အမျိုးသားတို့သည်စစ်တိုက်ခြင်း
ငှါ၊ အသီးအသီး ထက်နက် ကိုင်လျက် ထာဝရ
ဘုရား ရှေ့တော်၌ သင်တို့နှင့်အတူယော်ဒန်မြစ်
တဖက်သို့ ကူးသွား၍၊ သင်တို့သည် ထိုပြည်ကို
အောင်ပြီးလျှင်၊ ထိုအမျိုးသား တို့အား ဂိလဒ်
၃၀ ပြည်ကိုအပိုင်ပေးရကြမည်။-သို့မဟုတ်၊သူတို့
သည် ထက်နက်ကိုင်လျက် သင်တို့နှင့် အတူ မ
ကူးမသွားလျှင်၊ခါနာန်ပြည်၌သင်တို့တွင်ကိုယ်
ပိုင်ရာမြေကိုခံယူရကြမည်ဟု မှာထားလေ၏။-
၃၁ ဂဒ်အမျိုးသားနှင့်ရုဗင်အမျိုးသားတို့ကလည်း၊
ထာဝရဘုရားသည် ကိုယ်တော်ကျွန်တို့အားမိန့်
တော်မူသည်အတိုင်း၊ ကျွန်တော်တို့သည်ပြုကြ
၃၂ ပါမည်။- ယော်ဒန်မြစ်အရှေ့ထက်၌ အမွေခံရ
ပါမည် အကြောင်း၊ ကျွန်တော်တို့သည် ထက်
နက်ကိုင်လျက်၊ ထာဝရဘုရား ရှေ့တော်၌ ခါ
နာန်ပြည်သို့ကူးသွားပါမည်ဟုပြန်လျှောက်ကြ
၃၃ ၏၊-ထိုအခါမောရှေသည်အာမောရိရှင်ဘုရင်ရှိ
ဟုန်၏နိုင်ငံဆိုင်သမျှ၊ ဗာရှန်ရှင်ဘုရင်ဩဂ၏
နိုင်ငံဆိုင်သမျှသောနယ်မြေ၊ မြို့ရွာတို့ကိုဂဒ်အ
မျိုးသား၊ ရုဗင် အမျိုးသား၊ ယောသပ်၏ သား
မနာရှေမှ ဆင်းသက်သော မနာရှေ အမျိုးသား
တဝက်၌အပ်ပေးလေ၏။
၃၄ ဂဒ်အမျိုးသားတို့သည်ဒိဗုန်၊ အတရုတ်၊အာ
၃၅ ရော်၊- အာတရုတ် ရှောဖန်၊ ယာဇာ၊ ယုဂ္ဗေ
၃၆ ဟာ၊- ဗက်နိမရာ၊ဗေသာရန်မြို့များကိုရှင်၊ သိုး
၃၇ ခြံများကိုရှင်တည်လုပ်ကြ၏၊-ရုဗင်အမျိုးသား
တို့သည်ဟေရှဘုန်၊ ဧလာလေ၊ ကိရယသိမ်၊-
၃၈ နေဗော၊ ဗာလမောန်၊ ရှိဗမမြို့များကို အသစ်
၃၉ သောအမည်ဖြင့် သမုတ်၍ တည်ကြ၏။- မနာ
ရှေမှဆင်းသက်သောမာခိရအမျိုးသားတို့သည်၊
ဂိလဒ် မြို့သို့သွား၍ သိမ်းယူပြီးလျှင်၊ အရပ်မြို့
၄၀ သား အာမောရိလူတို့ကိုနှင်ထုတ်ကြ၏။- မော
ရှေသည် ဂိလဒ်မြို့ကို မနာရှေ၏သား မာခိရအ
၄၁ မျိုးသားတို့အားပေး၍၊သူတို့သည်နေကြ၏။-မ
နာရှေအမျိုးသား ယာဣရသည်ထည်းသွား၍၊
ဂိလဒ်ရွာများကိုသိမ်းယူပြီးမှ၊ ဟာဝုတ်ယာဣ
၄၂ ရ အမည် ဖြင့် သမုတ် လေ၏။- နောဗာ ထည်
ထည်းသွား၍၊ ကေနတ်မြို့ရွာတို့ကိုသိမ်းယူပြီး
မှ၊မိမိအမည်ဖြင့်နောဗာမြို့ဟုသမုတ်လေ၏။

၃၃

၁ မောရှေနှင့် အာရုန်မိရင်၍ အဲဂုတ္တုပြည်မှ

ထွက်ထားသော ဗုဒ္ဓ သရေထ အမျိုးသားအပေါင်းအ
ရင်းတို့သည် ခရီး သွားခြင်း အကြောင်း အရာ
၂ ရွားကို၊- ထာဝရ ဘုရား အမိန့်တော် အတိုင်း
စာရွေ့ မှတ် ထား ၏၊ ထိုခရီး သွား ခြင်း အ
၃ ကြောင်းအရာပါသော စာရင်းဟူမူကား၊- ပဌမ
လ၊ ထသယ်ငါးရက်နေ့၌ ရာမသတ်မြို့မှ ထွက်
သွားကြ၏၊ ပသခါပွဲကို ခံပြီးသောနောက်၊ နှက်
စန်နေ့၌ ဗုဒ္ဓ သရေထ အမျိုးသားတို့သည် အဲဂုတ္တု
လူအပေါင်းတို့ရှေ့မှာ ဝါကြွားသော အခြင်းအ
၄ ရာနှင့် ထွက်သွား ကြ၏၊- အကြောင်း မူ ကား၊
ထာဝရဘုရား ဒဏ်ခတ်တော်မူသော သားဦး
အပေါင်းတို့ကို အဲဂုတ္တုလူတို့သည် သင်းဂြိုဟ်ရ
ကြ၏၊ လူတို့၏ ဘုရား များ ကို လည်း၊ ထာဝရ
၅ ဘုရားသည်တရားစီရင်တော်မူ၏၊- ဗုဒ္ဓသရေထ
အမျိုး သားတို့သည် ရာမသတ်မြို့မှ ပြောင်း၍၊
၆ သုကုတ်အရပ်၌ စားခန်းချကြ၏၊- သုကုတ် အ
ရပ်မှ ပြောင်း၍၊ တောစပ်နား၊ ဧသံမြို့၌စားခန်း
၇ ချကြ၏၊- ဧသံမြို့မှ ပြောင်း၍၊ ဗာလဇေဖုန် မြို့
ရှေ့မှာရှိသော ပိဟဟိရုတ်မြို့သို့ တဖန်လည်၍၊
၈ မိဂဒေါလ မြို့ရှေ့၌ စားခန်း ချကြ၏၊- ပိဟဟိ
ရုတ်မြို့မှပြောင်း၍၊ ပင်လယ်အလယ်၌ရှောက်
သွားသဖြင့် ဧသံတောသို့ရောက်၍၊ ထိုတောထဲ
၌သုံးရက် ခရီးသွားပြီးလျှင်၊ မာရအရပ်၌စား
၉ ခန်းချကြ၏၊- မာရအရပ်မှပြောင်း၍၊ ရေတွင်း
ဆယ်နှစ်တွင်းနှင့်စွန်ပလွံပင်ခုနစ်ဆယ်ရှိသော
၁၀ ဧလိမ်ရွာသို့ရောက်၍၊ စားခန်းချကြ၏၊-ဧလိမ်
ရွာမှ ပြောင်း၍၊ ဧဲ့ပင်လယ် နားမှာ စားခန်းချ
၁၁ ကြ၏၊- ဧဲ့ပင်လယ်မှ ပြောင်း၍၊ သိန်တော၌
၁၂ စားခန်းချကြ၏၊- သိန်တောမှပြောင်း၍၊ ဒေါဖ
၁၃ ကာအရပ်၌စားခန်းချကြ၏၊-ဒေါဖကာအရပ်မှ
ပြောင်း၍၊ အာလုရှအရပ်၌ စားခန်း ချကြ၏၊-
၁၄ အာလုရှအရပ်မှပြောင်း၍၊လူများသောက်စရာ
ရေမရှိသော ရေဖိဒိမ် အရပ်၌ စားခန်းချကြ၏၊-
၁၅ ရေဖိဒိမ် အရပ်မှ ပြောင်း၍၊ သိနာတော၌ စား
၁၆ ခန်းချကြ၏၊- သိနာတောမှပြောင်း၍၊ကိဗြုတ်
၁၇ ဟတ္တဝါ အရပ် ၌ စားခန်း ချကြ ၏၊- ကိဗြုတ်
ဟတ္တဝါအရပ်မှပြောင်း၍၊ ဟာဇရုတ်အရပ်၌
၁၈ စားခန်းချကြ၏၊-ဟာဇရုတ်အရပ်မှပြောင်း၍၊
၁၉ ရိသမအရပ်၌စားခန်းချကြ၏၊- ရိသမအရပ်မှ
ပြောင်း၍၊ ရိမ္မုန်ဖာရက်၌ စားခန်း ချကြ၏၊-
၂၀ ရိမ္မုန်ဖာရက်အရပ်မှပြောင်း၍၊ လိဗနရွာ၌စား
၂၁ ခန်းချကြ၏၊- လိဗနရွာမှပြောင်း၍၊ ရိဿ အ
၂၂ ရပ်၌စားခန်းချကြ၏၊- ရိဿအရပ်မှပြောင်း၍၊
၂၃ ကေဟေလာသအရပ်၌စားခန်းချကြ၏၊-ကေဟေ
လာသ အရပ်မှပြောင်း၍၊ ရှာဖာတောင်၌ စား
၂၄ ခန်းချကြ၏၊-ရှာဖာတောင်မှပြောင်း၍၊ဟာရဒ
၂၅ အရပ်၌ စားခန်း ချကြ၏၊- ဟာရဒ အရပ်မှ
ပြောင်း၍၊ မက္ကလုတ်အရပ်၌စားခန်းချကြ၏၊-
၂၆ မက္ကလုတ်အရပ်မှပြောင်း၍၊ တာဟတ်အရပ်၌
၂၇ စားခန်းချကြ၏၊- တာဟတ်အရပ်မှ ပြောင်း၍၊
၂၈ တာရအရပ်၌ စားခန်းချကြ၏၊- တာရအရပ်မှ
ပြောင်း၍၊ မိသကာအရပ်၌ စားခန်း ချကြ၏၊-
၂၉ မိသကာအရပ်မှပြောင်း၍၊ဟာရှမောနအရပ်၌
၃၀ စားခန်းချကြ၏၊- ဟာရှမောနအရပ်မှ ပြောင်း
၃၁ ၍၊ မောသရုတ်အရပ်၌ စားခန်းချကြ၏၊- မော
သရုတ်အရပ်မှ ပြောင်း၍၊ ဗနေယာကန် အရပ်၌
၃၂ စားခန်းချကြ၏၊- ဗနေယာကန်အရပ်မှ ပြောင်း၍၊
၃၃ ဟောရဂိဒ်ဂဒ်အရပ်၌ စားခန်းချကြ၏၊- ဟော
ရ ဂိဒ်ဂဒ် အရပ်မှ ပြောင်း၍၊ ယုတ္တာသအရပ်၌
၃၄ စားခန်းချကြ၏၊- ယုတ္တာသအရပ်မှ ပြောင်း၍၊
၃၅ ဧဗြောန အရပ်၌ စားခန်းချကြ၏၊- ဧဗြောနအ
ရပ်မှပြောင်း၍၊ ဧဇယုန်ဂါဗာအရပ်၌စားခန်း
၃၆ ချကြ၏၊- ဧဇယုန်ဂါဗာအရပ်မှပြောင်း၍၊ ဇိန
၃၇ တော၊ ကာဒေရှအရပ်၌စားခန်းချကြ၏၊-ကာဒေ
ရှအရပ်မှပြောင်း၍၊ ဧဒုံပြည်အနားမှာ ဟောရ
၃၈ တောင်၌ စားခန်း ချကြ၏၊- ဗုဒ္ဓသရေလ အမျိုး
သားတို့သည် အဲဂုတ္တုပြည်မှထွက်သောနောက်၊
သက္ကရာဇ်လေးဆယ်၊ ပဉ္စမလ၊ ပဌမနေ့ရက်၌
ထာဝရဘုရားအမိန့်တော်ရှိသည်အတိုင်း၊ ယဇ်
ပုရောဟိတ်အာရုန်သည်ဟောရတောင်ပေါ်သို့
၃၉ တက်၍ အနိစ္စ ရောက်လေ၏၊- အာရုန် သည်
ဟောရ တောင်ပေါ်မှာ အနိစ္စ ရောက်သော အ
ခါ၊ အသက်တရာနှစ်ဆယ်သုံးနှစ်ရှိသတည်း၊-
၄၀ ခါနာန်ပြည် တောင်ပိုင်း၌ နေသော ခါနာန်မင်းဘု
ရင်အာရဒ်သည် ဗုဒ္ဓသရေလအမျိုးသား ရောက်
၄၁ ကြောင်းကို ကြားလေ၏၊- သူတို့သည် ဟောရ
တောင်မှပြောင်း၍၊ ဇာလမောနအရပ်၌စားခန်း
၄၂ ချကြ၏၊- ဇာလမောနအရပ်မှပြောင်း၍၊ ပုနုန်
၄၃ အရပ်၌စားခန်းချကြ၏၊- ပုနုန်အရပ်မှပြောင်း
၄၄ ၍၊ ဩဗုတ်အရပ်၌စားခန်းချကြ၏၊-ဩဗုတ်အ
ရပ်မှပြောင်း၍၊ ဣဇာဗာရိမ်အရပ်၌ စားခန်း
၄၅ ချကြ၏၊- ဣဇာဗာရိမ် အရပ်မှပြောင်း၍၊ဒိဗုန်
၄၆ ဂဒ်အရပ်၌ စားခန်းချကြ၏၊- ဒိဗုန်ဂဒ် အရပ်မှ
ပြောင်း၍၊ အာလမုန် ဒိဗလသိမ်အရပ်၌ စား

၄၇ သမ်းကြွကြ၏။– အာလမုန် ဒိဗလသိမ်ကိုရပ်မှ
ပြောင်း၍၊ နေဗောတောင် ရှေ့တွင် အာဗရိမ်
၄၈ တောင်ရိုး၌စခန်းချကြ၏။– အာဗရိမ်တောင်
ရိုးမှပြောင်း၍၊ မောအပ်လွင်ပြင်၊ ယော်ဒန်မြစ်
၄၉ နား၊ ယေရိခေါမြို့တဘက်၌စခန်းချကြ၏။–ထို
သို့မောအပ် လွင်ပြင်၊ ယော် ဒန်မြစ်နားမှာ ဗက်
ယေရှိမုတ်မြို့မှ အာဗေလရှိတ္တိမ်မြို့ တိုင်အောင်
စခန်းချကြ၏။
၅၀ မောအပ်လွင်ပြင်၊ယော်ဒန်မြစ်နား၊ ယေရိခေါ
မြို့တဘက်၌ထာဝရဘုရားသည် မောရှေကိုခေါ်
၅၁ ၍၊– သင်သည်ဣသရေလ အမျိုးသားတို့ အား
ဆင့်ဆိုရမည်မှာ၊ သင်တို့သည် ယော်ဒန်မြစ်ကို
၅၂ ကူး၍ခါနာန်ပြည်သို့ရောက်ကြသောအခါ၊–ထို
ပြည်သူပြည်သားအပေါင်းတို့ကို နှင်ထုတ်ရကြ
မည်။ သူတို့ရေးသောအရုပ်၊ သွန်းသောရုပ်တု
ဆင်းတုရှိသမျှတို့ကို ဖျက်ရကြမည်။ သူတို့ထုံး
၅၃ အောက်ကုန်းရှိသမျှတို့ကို ဖြိုဖျက်ရကြမည်။–ထိုပြည်
ကို သင်တို့အား ငါအပိုင်ပေးသော ကြောင့်၊ ထို
ပြည်သားတို့ကို နှင်ထုတ်၍၊ သင်တို့ကိုယ်တိုင်
၅၄ နေရကြမည်။– သင်တို့အဆွေအမျိုးတို့ အား၊ စာ
ရေးတံချ၍ ထိုမြေကိုဝေရမည်။ လူများလျှင်၊ များ
သောမြေ၊ လူနည်းလျှင်၊ နည်းသောမြေကိုပေးရ
မည်။ အသီးအသီးတို့သည် စာရေးတံကျသည်
အတိုင်း၊ ဘိုးဘေအမျိုးအနွယ်အလိုက် အမွေခံ
၅၅ ရကြမည်။– သင်တို့သည် ထိုပြည်သူပြည်သား
တို့ကို အကုန်အစင်မနှင်ထုတ်လျှင်၊ ကျန်ကြွင်း
သောသူတို့သည်သင်တို့မျက်စိ၌ အပ်ဖျားကဲ့သို့
ရှိ၍၊သင်တို့နံတေး၌ဆူးကဲ့သို့ငှင်ခြစ်၍၊သင်တို့
နေသောပြည်မှာ သင်တို့ကို နှောင့်ရှက်ကြလိမ့်
၅၆ မည်။– ထိုမှတပါး၊ သူတို့အား ငါကြံစည်သည်
အတိုင်း၊ သင်တို့ကိုငါပြုမည်ဟု မိန့်တော်မူ၏။

၃၄

၁ တဖန် မောရှေအား၊ ထာဝရဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
၂ မည်မှာ၊– သင်တို့သည်ခါနာန်ပြည်သို့ ရောက်
ကြသောအခါ၊ သင်တို့ အမွေခံရသော ခါနာန်
၃ ပြည်နယ် အပိုင်းအခြား ဟူမူကား၊– တောင်
မျက်နှာတွင် ဇိန်တောင်မှ ဧဒုံပြည် အနား၌
ရှောက် လျှင်၊ သောဒုံ ဆိုင် အရှေ့ ဘက်၊ သည်
၄ တောင်ထက်အပိုင်းအခြားဖြစ်ရမည်။–တောင်
ဘက်အပိုင်းအခြားသည်တောင်မျက်နှာမှလည်
၍၊ အာကရဗ္ဗိမ် ကုန်းကိုရှောက်လျှက်၊ ဇိန်ရွာ
သို့ရောက်ရမည်။ ထိုရွာကပြန်၍၊ ကာဒေရှဗာ
နာရွာ၊ ဟာဇရဒ္ဒါရွာ၊ အာဇမုန်ရွာကို ရှောက်
၅ သဖြင့်၊– အာဇမုန်ရွာမှပြန်၍၊ အဲဂုတ္တုချောင်း
၆ ကို လိုက် လျှက် ပင်လယ် ၌ ဆုံးရမည်။– အ
နောက်ထက်၌ ပင်လယ်ကြီးသည် အနောက်အ
၇ ပိုင်းအခြားဖြစ်ရမည်။– မြောက် ထက် အပိုင်း
အခြား၊ သည် ကြီးသော ပင်လယ်က ထွက်၍
၈ ဟောရတောင်ကို ရှေ့ရှုသွား ပြီးလျှင်၊– ထို
၉ တောင်မှဟာမတ်လမ်းဝ၊ဇေဒဒ်ရွာ၊– ဇိဖြုန်ရွာ
၁၀ ကိုရှောက်၍၊ဟာဇရေနန်ရွာ၌ဆုံးရမည်။– အ
ရှေ့အပိုင်းအခြားသည်ဟာဇရေနန်ရွာမှထွက်
၁၁ ၍ရှေဖံရွာသို့ရောက်ပြီးလျှင်၊– အဣနရွာအရှေ့
၌ရှောက်၍၊ ရိဗလရွာသို့သွားရမည်။ ထိုရွာမှ
ထွက်၍ ဂနေသရက်အိုင်အရှေ့ကမ်းကိုရှောက်
၁၂ သဖြင့်၊– ယော်ဒန်မြစ်ကိုလိုက်၍၊သောဒုံအိုင်၌
ဆုံးရမည်။ ဤရွေ့ကား၊သင်တို့အမွေခံရသော
ပြည် နယ် အပိုင်း အခြားဖြစ် သတည်းဟု မိန့်
တော်မူ၏။
၁၃ မောရှေက သည်။၊ ဤရွေ့ကား၊ သင်တို့သည်
စာရေးတံ ချ၍ အမွေခံရ သော ပြည်၊ ထာဝရ
ဘုရားမှာထားတော်မူသည်အတိုင်း၊ အမျိုးကိုး
မျိုးနှင့်အမျိုးတဝက်၌ ဝေပေးရသော ပြည်ဖြစ်
၁၄ သတည်း။– ရုဗင်အမျိုးသား၊ဂဒ်အမျိုးသား၊မ
၁၅ နာရှေအမျိုးသားတဝက်တည်းဟူသော၊ အမျိုး
နှစ်မျိုးနှင့်တဝက်တို့သည်၊ မိမိတို့အမွေခံသော
မြေကိုယော်ဒန်မြစ်အရှေ့၊ယေရိခေါမြို့တဘက်၊
နေထွက်ရာထက်၌ဘိုးဘေအဆွေအမျိုးအလိုက်
ခံရကြပြီဟု၊ ဣသရေလအမျိုးသားတို့အား မှာ
ထားလေ၏။
၁၆ တဖန် ထာဝရဘုရားသည် မောရှေအား မိန့်
၁၇ တော်မူသည်ကား၊–အမျိုးသားတမျိုးလျှင်၊မင်း
တပါးစီ ရွေး၍၊ ထိုမင်း တို့သည် ယဇ်ပရော
၁၈ ဟိတ်ဧလာဇာ၊ နုန်၏သားယောရှုတို့နှင့် ပိုင်း
ချက်ခါနာန်ပြည်ကိုဝေ၍၊ သင်တို့အားအမွေ
၁၉ ပေးရ ကြမည်။– ရွေးရသောမင်းတို့၏ အမည်
ကား၊ ယုဒအမျိုးသားထဲက ယေဖုန္နာသားကာ
၂၀ လက်၊– ရှိမောင်အမျိုးသားထဲကအမိဟုဒ်သား
၂၁ ရှေမွေလ၊– ဗင်္ယာမိန်အမျိုးထဲကခိသလုန်သား
၂၂ ဧလိဒဒ်၊– ဒန်အမျိုးကိုအုပ်စိုးသောသူ၊ယောဂ
၂၃ လိသားဗုက္ကိ၊– ယောသပ်သားတို့တွင် မနာရှေ
အမျိုးကို အုပ်စိုးသောသူ၊ ဧဖုဒ်သား ဟံနေ
၂၄ လ၊–ဧဖရိမ်အမျိုးကိုအုပ်စိုးသောသူ၊ ရှိဖတန်

၂၆ သား ဧလိဇာ၊- ဇာဗုလုန် အမျိုးကို အုပ်စိုး
၂၇ သောသူ၊ ပါနက်သား ဧလိဇာန်၊- ဣသခါအ
မျိုးကို အုပ်စိုးသောသူ၊ အဇ္ဇန်သား ပါလျတေ
၂၈ လ၊- အာရှာအမျိုးကိုအုပ်စိုးသောသူ၊ ရှေလော
၂၉ မိသား အဟိဟုဒ်၊- နဿလိ အမျိုး ကို အုပ် စိုး
၃၀ သောသူ၊အမိဟုဒ်သားပေဒဟေလတည်း။- ဤ
သူတို့သည်၊ ခါနာန် ပြည်၌ ဣသရေလ အမျိုး
သား တို့အား အမွေ မြေကို ဝေပေးစေခြင်း ငှါ၊
ထာဝရဘုရား ခန့်ထားတော်မူသောသူ ဖြစ်ကြ
သတည်း။

၃၅

၁ မောဘလွင်ပြင်၊ယော်ဒန်မြစ်နား၊ ယေရိခေါ
မြို့အစပ်၌ထာဝရဘုရားသည် မောရှေကိုခေါ်
၂ တော်မူ၍၊- သင်သည်ဣသရေလအမျိုးသားတို့
အားဆင့်ဆိုရမည်မှာ၊သူတို့သည်အမွေခံသော
မြေ၌ လေဝိသား တို့နေစရာတို့ မြို့တို့ကိုငှင်၊ မြို့
၃ ပတ်ထည် နယ် တို့ကိုငှင် ပေးရကြမည်။- ထိုမြို့
တို့သည် လေဝိသား နေစရာဘို့ ဖြစ်၍၊ မြို့ပတ်
ထည်နယ်တို့၌ ထိုးနွား အစရှိသော တိရစ္ဆာန်
၄ များနှင့်ဥစ္စာများကိုထားရမည်။- လေဝိသား
တို့အားပေးသောမြို့နယ်တို့ကို မြို့ပြင်ပတ်ထည်
၅ ၌အတောင်တထောင်ကျယ်စေရမည်။- မြို့ပြင်၊
အရှေ့၊ အနောက်၊ တောင်၊ မြောက်အရပ်လေး
မျက်နှာ၌ နှစ်ထောင်စီ တိုင်းထွာ၍၊ ထိုမြေအ
ထဲမျက်၌မြို့တည်ရမည်။ ဤမြေကား၊မြို့နယ်
၆ အထိုင်းအရှည်ဖြစ်ရသတည်း။- လေဝိသားတို့
အား ပေးသောမြို့တို့တွင်၊ လူကိုသတ် သောသူ
သည်ပြေး၍ ခိုမှီရာမြို့ခြောက်မြို့တို့ကို ရွေးထား
ရမည်။ထိုမြို့မှတပါး၊အခြားသောမြို့လေးဆယ်
၇ နှစ်မြို့တို့ကို ပေးရမည်။- ထိုသို့လေဝိ သား တို့
အားပေးရသော မြို့ပေါင်းကား၊ နယ်နှင့် တကွ
၈ လေးဆယ် ရှစ်မြို့ ဖြစ်သတည်း။-ထိုမြို့တို့ကို၊ဣ
သရေလ အမျိုးသား ပိုင်သော မြေထဲက နုတ်ရ
မည်။များသောမြေကိုရသောသူသည်များသော
မြို့၊နည်းသောမြေကိုရသောသူသည်နည်းသော
မြို့တို့ကိုပေးရမည်။ လူအသီးအသီးတို့သည်အ
မွေခံရသည်အတိုင်း၊ မိမိတို့မြို့များထဲက နုတ်၍
လေဝိသားတို့အားပေးရမည်။
၉ ထပ်၍ မောရှေအား ထာဝရဘုရားက၊ သင်
သည် ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရ
၁၀ မည်မှာ၊-သင်တို့သည်ယော်ဒန်မြစ်ကိုကူး၍၊ခါ
၁၁ နာန်ပြည်သို့ရောက်ကြသောအခါ၊-လူအသတ်
ကိုအမှတ်တဲ့ သတ်မိသောသူပြေး၍ ခိုမှီရာမြို့
၁၂ တို့ကို ရွေးထား ရမည်။- ထိုမြို့တို့ ကား၊ လူအ
သတ်ကိုသတ်သောသူသည် ပရိသတ် ရှေ့သို့
ရောက်၍၊တရားစီရင်ခြင်းကိုမခံမှီတိုင်အောင်၊
သေစားသေစေသောသူ၏ လက်မှလွှတ်၍၊ ခိုမှီ
၁၃ ရာမြို့ဖြစ်ရသတည်း။- လေဝိသားတို့အား ပေး
၁၄ သောမြို့တို့တွင် ယော်ဒန်မြစ် အရှေ့ထက်၌ ခိုမှီ
ရာမြို့သုံးမြို့၊ခါနာန်ပြည်၌ခိုမှီရာမြို့သုံးမြို့၊ပေါင်း
၁၅ ခြောက်မြို့တို့ကိုရွေးထားရမည်။-ထိုမြို့ခြောက်
မြို့တို့ ကား၊ လူ အသက်ကို အမှတ် တဲ့ သတ်မိ
သော ဣသရေလ အမျိုးသား၊သင်တို့တွင်တည်း
ခိုသော တပါး အမျိုးသား၊ တို့သည် ပြေး၍ ခိုမှီ
၁၆ ရာမြို့ဖြစ်သတည်း။- သို့ရာတွင်၊ လူအသတ်ကို
သေစေခြင်းငှါ၊ သံလက်နက်နှင့် ရိုက်လျှင်၊ လူ
သတ်ဖြစ်၏။လူသတ်သည်အသေသတ်ခြင်းကို
၁၇ အမှန် ခံရမည်။- လူအသတ်ကို သေစေခြင်း ငှါ
ကျောက်ခဲနှင့်ပြစ်လျှင်၊ လူသတ်ဖြစ်၏။ အသေ
၁၈ သတ် ခြင်းကို အမှန် ခံရမည်။- လူ အသတ်ကို
သေစေ ခြင်းငှါ၊ ထစ်သား လက်နက်နှင့် ရိုက်
လျှင်၊လူသတ်ဖြစ်၏၊အသေသတ်ခြင်းကိုအမှန်
၁၉ ခံရမည်။-သေစားသေစေသောသူသည် လူသတ်
၂၀ ကိုတွေ့သောအခါ၊ ကိုယ်တိုင်သတ်ရမည်။- သူ
တပါးကိုအငြိုးထား၍တွန်းချသော်၎င်း၊ သေစေ
ခြင်းငှါချောင်းမြောင်း၍ တစုံတခုနှင့်ပြစ်သော်
၂၁ ၎င်း၊-သေစေခြင်းငှါမုန်းသောစိတ်ရှိ၍လက်ဖြင့်
ရိုက်သော်၎င်း၊ ထိုသို့ပြုသော သူသည် လူသတ်
ဖြစ်သောကြောင့်၊ အသေသတ်ခြင်းကို အမှန်ခံ
ရမည်။ သေစားသေစေသောသူသည်တွေ့သော
၂၂ အခါ၊သတ်ရမည်။-သို့မဟုတ်၊မုန်းသောစိတ်မ
ရှိဘဲ အမှတ် တဲ့ တွန်း၍ သော် ၎င်း၊ မချောင်း
၂၃ မြောင်းဘဲတစုံတခုနှင့်ပြစ်မိသော်၎င်း၊-သူ၏ရန်
သူမဟုတ်၊ မုန်းသော စိတ်မရှိ၊ သူကို မမြင်ဘဲ
လျှင်၊ သေအောင် ကျောက်ခဲနှင့် ပြစ်မိသော်
၂၄ ၎င်း၊ ထစုံစီရင်ထုံးဖွဲ့သည်အတိုင်း၊ ပရိသတ်
တို့သည်သတ်သောသူနှင့် သေစားသေစေသော
၂၅ သူစက်ကြားခွဲတရားစီရင်၍၊- သတ်သောသူကို
သေစား သေစေ သောသူ၏ လက်မှ နုတ်သဖြင့်၊
အထက်ကပြေး၍ ခိုမှီသောမြို့သို့ ပြန်ပို့ရမည်။
စွဲဆီလောင်းခြင်းကိုခံရသောယဇ်ပုရောဟိတ်
၂၆ မင်းမသေမှီ တိုင်အောင်၊ ထိုမြို့၌နေရမည်။- လူ
အသတ်ကို သတ်မိသော သူသည် ပြေး၍၊ ခိုမှီ
၂၇ သော မြို့နယ်ပြင်သို့ ထွက်သော်၊- သေစား သေ



 

စေသောသူသည် မြို့နယ်မြစ်မှာ ထိုသူကိုတွေ့၍
သတ်လျှင်၊ လူ့အသက်ကို သတ်သော အပြစ်မ
၂၈ ရှိ။- အကြောင်းမူကား၊ ထိုသူသည် ယဇ်ပုရော
ဟိတ်မင်း မသေမှီ တိုင်အောင်၊ မိမိခိုသော မြို့
ထဲမှာနေရမည်၊ ယဇ်ပုရောဟိတ်မင်းသေသော
နောက်မှ၊ ထိုသူသည် မိမိပိုင်သော မြေသို့ ပြန်ရ
၂၉ သောအခွင့်ရှိ၏။- ဤရွေ့ကား၊သင်တို့သည်နေ
သောရာရာ၌ သားမြေး အစဉ်အဆက် စောင့်ရ
၃၀ သော စီရင်ထုံးဖွဲ့ချက် ဖြစ်သတည်း။- လူအ
သက်ကိုသတ်၍လူသတ်ဖြစ်သောသူမည်သည်
ကား၊ သက်သေခံချက်ရှိသည်အတိုင်း၊ အသေ
သတ်ခြင်းကိုအမှန်ခံရမည်၊ သို့ရာတွင်၊ သက်
သေတယောက်တည်း သာရှိလျှင်၊ မသတ်ရ။-
၃၁ အသေခံ ထိုက်သောလူသတ်၏ အသက်ဖိုး ငွေ
ကို မခံမယူရ။ လူသည်အသေသတ်ခြင်းကို အ
၃၂ မှန်ခံရမည်။- ခိုမှီရာမြို့သို့ ပြေးသော သူသည်၊
ယဇ်ပုရောဟိတ်မင်းမသေမှီ၊ မိမိနေရင်းအရပ်
သို့ပြန်၍ နေမည်အကြောင်း၊ အရွေးငွေကိုမခံမ
၃၃ ယူရ။- ထိုသို့သင်တို့နေသောပြည်ကို မညစ်ညူး
စေရ၊ လူ့အသွေးသည် ပြည်ကိုညစ်ညူးစေတတ်
၏၊ လူ့အသွေးကိုသွန်းသောသူ၏ အသွေး အား
ဖြင့်သာ ထိုညစ်ညူးခြင်းကိုစင်ကြယ်စေနိုင်၏။-
၃၄ ငါကျိန်းဝပ်၍၊ သင်တို့နေသော ပြည်ကို မညစ်
ညူး စေရ။ ငါ ထာဝရဘုရား သည် ဣသရေ
လ အမျိုးသား တို့တွင် ကျိန်းဝပ်သည်ဟု မိန့်
တော်မူ၏။

၃၆

၁ ယောသပ် အမျိုးဖြစ်သော မနာရှေနှင့်မာခိရ
တို့မှဆင်းသက်သော ဂိလဒ်၏သားအဆွေအမျိုး
သူကြီးတို့သည်၊ မောရှေအစရှိသော၊ ဣသရေ
လအမျိုးသားအဆွေအမျိုးသူကြီးတို့ထံသို့လာ
၂ ၍၊- အကျွန်ုပ်တို့သခင်သည်စာရေးတံချသဖြင့်၊
ဣသရေလ အမျိုးသားတို့အား ခါနာန် ပြည်ကို
အမွေ ပေးစေခြင်းငှါရင်၊ အကျွန်ုပ်တို့ အစ်ကို
ဇလောဖဒ် ၏ အမွေ မြေ ကို သူ၏ သမီး တို့အား
ပေးစေခြင်းငှါရင်၊ ထာဝရဘုရားအမိန့်တော်ရှိ
၃ ပါ၏။- ထိုမိန်းမတို့သည်မိမိအမျိုးမှတပါး၊ အခြား
သောဣသရေလ အမျိုးသားနှင့်မုံဖက်လျှင်၊ သူ
တို့အမွေမြေကိုအကျွန်ုပ်တို့မိစဉ်ဘဆက်အမွေ
မှနှုတ်၍၊ သူတို့ဝင်သောအမျိုး၏ အမွေထဲ၌ပါ
သွားသဖြင့်၊ အကျွန်ုပ်တို့ အမွေမြေသည် လျော့
၄ ပါလိမ့်မည်။- ဣသရေလအမျိုးသားတို့၌ယုဘိ
လနှစ် ရောက်သောအခါ၊ သူတို့အမွေမြေသည်
သူတို့ ဝင်သောအမျိုး၏ အမွေ၌ အမြဲ တည်သ
ဖြင့်၊ အကျွန်ုပ်တို့၏မိစဉ်ဘဆက်အမွေမှအစဉ်
နှုတ်လျှက် ရှိပါလိမ့်မည်ဟု လျှောက်ထားကြ
၅ ၏။- ထိုအခါမောရှေသည်၊ ထာဝရဘုရား၏အ
မိန့်တော် အတိုင်း။ ဣသရေလ အမျိုးသား တို့
အား မှာထား သည်မှာ၊ ယောသပ် အမျိုး
၆ သားတို့၏စကားသည်လျှောက်ပတ်ပေ၏။- ဇ
လောဖဒ်သမီးတို့၏အမှု၌ထာဝရဘုရားမိန့်တော်
မူသည်ကား၊ သူတို့သည်အလိုရှိသောသူနှင့် မုံ
ဖက်ပါစေ။ သို့ရာတွင်၊မိစဉ်ဘဆက်အမျိုး
သားမှတပါး၊အခြားသောသူနှင့်မုံဖက်ခြင်းကို
၇ မပြုစေနှင့်။- ဣသရေလအမျိုးသားတို့၏အမွေ
မြေသည်၊ တမျိုးမှတမျိုးသို့ မပြောင်းရ။ ဣသ
ရေလ အမျိုးသား အပေါင်းတို့သည်၊ အသီးအ
သီး မိမိတို့ မိစဉ် ဘဆက် အမွေမြေ၌ နေရကြ
၈ မည်။-ဣသရေလအမျိုးတနံ့တမျိုး၌ အမွေမြေ
ရှိသောမိန်းမသည် မိမိတို့မိစဉ်ဘဆက်အမျိုးသား
နှင့်မုံဖက်ရမည်၊ ထိုသို့ဣသရေလ အမျိုးသား
အသီးအသီးတို့သည်မိမိတို့မိစဉ်ဘဆက်အမွေ
၉ မြေကိုခံစားရကြမည်။-အမွေမြေသည်၊တမျိုးမှ
တမျိုးသို့မပြောင်းရ၊ ဣသရေလအမျိုးသားအ
သီးအသီး တို့သည် မိမိတို့ အမွေမြေ၌ နေရကြ
မည်ဟုမိန့်တော်မူ၏။
၁၀ ထာဝရ ဘုရား သည် မောရှေ အား မှာ ထား
တော်မူသည့်အတိုင်း၊ဇလောဖဒ်၏သမီးမာလာ၊-
၁၁ တိရဇာ၊ ဟောဂလာ၊ မိလကာ၊ နောအာ တို့
သည်ပြု၍၊ ဘကြီးသား၊ ဘထွေးသားတို့နှင့်မုံ
၁၂ ဖက်ကြ၏။- ထိုသို့ယောသပ်တွင်ဖြစ်သောမနာ
ရှေသားအဆွေအမျိုး၌မုံဖက်ခြင်းအမှုကိုပြု၍၊
သူတို့အမွေမြေသည်သူတို့မိစဉ်ဘဆက်အမျိုး၌
၁၃ တည်နေ၏။-ဤရွေ့ကား၊မောဘလွင်ပြင်၊ယော်
ဒန်မြစ်နား၊ယေရိခေါမြို့တဘက်၌ထာဝရဘုရား
သည်၊ မောရှေအားဖြင့်ဣသရေလအမျိုးသား
တို့အားထားတော်မူသော စီရင်ထုံးဖွဲ့ချက်ဖြစ်
သတည်း။

ရှင်မောရှေ စီရင်ရေးထားသောတောလည်ရာကျမ်းပြီး၏။

# တရားဟောရာကျမ်း။
# DEUTERONOMY.

## ၁

၁ တောကြီးလွင် ပြင်၊ ယော်ဒန် မြစ်နား၊ သုဖမြို့
တဖက်၊ ပါရန်မြို့၊ တောဖေလမြို့၊ လာဗန်မြို့၊ ဟာ
ဇရုတ်မြို့၊ ဒိဇဟပ်မြို့တို့အလယ်၌မောရှေသည်
ဣသရေလအမျိုးသားတို့အား ဟောပြောသော
စကားများကိုပြန်ရသေသည်မှာ။
၂ ကာဒေရှဗာနာအရပ်သည်၊ စိရတောင်ထမ်း
ဖြင့် ဟောရပ်အရပ်နှင့် ဆယ်တရက် ခရီးကွာ
ထတည်း။
၃-၅ မောရှေသည်၊ ဟေရှဘုန်မြို့၌နေသောအာ
မောရိရှင်ဘုရင်ရှိဟုန်ကိုင်၊ ဧဒြေပြည်၊ အာရှတ
ရုတ်မြို့၌နေသော ဗာရှန်ဘုရင်ဩဃကိုင်ထုပ်
ကြီးပြီးမှ၊ သက္ကရာဇ်လေးဆယ်ပြည့်၊ ကောဇသ
မထ၊ ပဌမနေ့ရက်၌ မောထပြည်၊ ယော်ဒန်မြစ်
နားမှာထာဝရဘုရားမှာထားတော်မူနှင့်အမျှအ
ထိုင်း၊ ဣသရေလအမျိုး သားတို့အား ဆင့်ဆို၍
ဟောပြောသောတရားစကားဟူမူကား၊
၆ ငါတို့ဘုရားသခင်ထာဝရဘုရားသည်၊ ဟော
ရပ် အရပ်၌ ငါတို့အား မိန့် တော်မူသည် ကား၊
သင်တို့သည်ကာလအမြှန်နေအောင်၊ ဤတောင်
၇ ၌နေကြပြီ။- လှည့်ထည်၍ ခရီးသွားကြလော့။
အာမောရိတောင် သို့ငှင်၊ ထိုတောင် နှင့် နီးသော
အရပ်၊ လွင်ပြင်၊ တောင်မိုး၊ မြှင့်၊ တောင်ရှုတ်နှာ၊
ပင် လယ် နား သို့ ငှင်၊ ခါနာန် ပြည်၊ လေ ဗ နွန်
တောင်၊ ဥဖရတ် မြစ်ကြီး တိုင်အောင်ငှင် သွား
၈ ကြလော့။-ထိုပြည်ကိုသင်တို့ရှေ့မှာငါထားပြီ။
ထာဝရ ဘုရားသည် သင်တို့ အဘ အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ်မှစ၍၊ သူတို့အမျိုးအနွယ်အား
ပေးမည်ဟုကျိန်ဆိုတော်မူသောပြည်ကို ဝင်၍၊
အမိမ်းယူကြလော့ဟုမိန့်တော်မူ၏။
၉ ထိုအခါသင်တို့ အားငါပြောသည်ကား၊ သင်
တို့ အမှုကို ငါတ ယောက် တည်း မထမ်း နိုင်။-
၁၀ သင်တို့၏ဘုရားသခင်ထာဝရဘုရားသည် သင်
တို့ကိုများပြားစေတော်မူ၍၊ သင်တို့သည်အရေ
အတွက်အားဖြင့် ကောင်းကင် ကြယ်ကဲ့သို့ယ
၁၁ နေ့ဖြစ်ကြ၏။- သင်တို့အဘများ၏ ဘုရား သခင်
ထာဝရဘုရားသည် သင်တို့ကို အဆအထောင်
အားဖြင့် များပြားစေတော်မူပါစေသော၊ ဂတိ
တော်ရှိသည်အတိုင်း ကောင်းကြီး ပေးတော်မူ
၁၂ ပါစေသော။- သင်တို့ပင်ပန်းခြင်း၊ အမှုဆောင်
ရွက် ခြင်း၊ ရန် တွေ့ ခြင်း ဝန်ကို ငါ တယောက်
၁၃ တည်းအဘယ်သို့ထမ်းနိုင်မည်နည်း။-ညာဏ်
ပညာနှင့်ပြည့်စုံ၍အသရေရှိသောသူတို့ကိုသင်
တို့အမျိုးများထဲက ရွေး၍ပေးကြလော့၊ သူတို့ကို
မင်းအရာ၌ ငါခန့်ထားမည်ဟု ပြောဆို လျှင်၊-
၁၄ သင်တို့က၊ ကိုယ် တော် ပြော သည် အတိုင်း ပြု
၁၅ ကောင်းပါသည်ဟု ပြန် ဆိုကြ၏။- ထိုကြောင့်
သင်တို့ အမျိုး များ၌ အသရေ ရှိ သော လူ ကြီး၊
ပညာရှိတို့ကို ငါ ရွေးချယ်ပြီးလျှင်၊ သင်တို့တွင်
မင်းလုပ်ရသောသူတဦးဟူသော၊ လူတထောင်
အုပ်၊ တရာအုပ်၊ ငါးဆယ် အုပ်၊ တဆယ်အုပ်၊
၁၆ အကြပ်အဆော်အရာ၌ ခန့်ထား၏။- တရားသူ
ကြီးတို့အားလည်း၊ သင်တို့ညီအစ်ကို၏ အမှုတို့
ကို နား ထောင်၍၊ အမျိုး သားချင်း တရားတွေ့
သည်ဖြစ်စေ၊ တပါး အမျိုး သားနှင့် တွေ့သည်
၁၇ ဖြစ်စေ၊ တရားသဖြင့်စီရင်ကြလော့။- တရားအ
မှုကို စီရင်သောအခါ၊ အဘယ်သူ၏မျက်နှာကို
မထောက်ရ။ လူငယ်စကားကို လူကြီးစကားကဲ့
သို့ မှတ်ရမည်။ အဘယ် လူကိုမျှ မကြောက်ရ၊
အကြောင်းမူကား၊ တရားအမှုကို ဘုရားသခင်
ပိုင်တော်မူသောကြောင့်တည်း။ ကိုယ်တိုင်မစီ
ရင်တတ်သောအမှုကိုငါ့ထံမှာအယူခံရမည်။ ငါ
၁၈ ထည်း နား ထောင် မည် ဟု မှာ ခဲ့ ၏။- သင် တို့
ပြုရသမျှသော အမှုတို့ကိုထည်း ထိုအခါငါ မှာ
ထားခဲ့၏။
၁၉ ငါ တို့ သည် ဟောရပ် အရပ် မှ ထွက် သော
နောက်၊ အာမောရိ တောင်သို့ သွားသောထမ်း
နားမှာ ကြောက်မက်ဖွယ်ဖြစ်၍ သင်တို့တွေ့မြင်
သောတောကြီးအလယ်၌၊ ငါတို့ဘုရား သခင်
ထာဝရဘုရား မှာထားတော် မူ သည် အတိုင်း၊
ရှောက်သွား၍၊ ကာဒေရှဗာနာအရပ်သို့ရောက်
၂၀ ကြ၏။- ထိုအခါငါကထည်း၊ ငါတို့ဘုရားသခင်

ထာဝရဘုရား ပေးတော်မူသော အာမောရိ
၂၁ တောင်သို့ သင်တို့သည် ရောက်ကြပြီ။- သင်တို့
ဘုရားသခင် ထာဝရဘုရားသည် ပြည်တော်ကို
သင်တို့ရှေ့မှာထားတော်မူပြီ၊ သင်တို့အဘများ၏
ဘုရား သခင် ထာဝရ ဘုရား မိန့်တော်မူ သည်
အတိုင်း၊ တက်သွား၍ သိမ်းယူ ကြလော့၊ မ
ကြောက် ကြနှင့်၊ စိတ် ပျက်ကြနှင့်ဟု
၂၂ ပြောဆိုရ၏။- ထိုအခါသင်တို့ရှိသမျှသည် ငါ့ထံသို့
ချဉ်းကပ်၍၊ အကျွန်ုပ်တို့ရှေ့၌လူတို့ကိုစေလွှတ်
ပါမည်၊ သူတို့သည်ထိုပြည်ကိုစူးစမ်းပြီးမှ၊ အ
ကျွန်ုပ်တို့သည်အဘယ်လမ်းသို့သွား၍လျှင်၊ အ
ဘယ်မြို့သို့ ရောက်ရ မည်ကို ကြားပြော ကြပါ
၂၃ လိမ့်မည်ဟု-လျှောက်ဆိုသောစကားကို ငါနှစ်
သက်၍၊ သင်တို့တွင် တမျိုးတယောက်စီ၊ လူ
ပေါင်း တကျိပ်နှစ်ယောက်တို့ကို ရွေးထား၏။-
၂၄ ထိုသူတို့သည်တောင်ပေါ်သို့တက်သွား၍၊ ဧရှ
၂၅ ကောလချိုင့်သို့ရောက်သဖြင့် စူးစမ်းကြ၏။-ထို
ပြည်၌ရသောသစ်သီးကိုယူ၍ဆောင်ခဲ့လျက်၊
ငါတို့ဘုရား သခင် ထာဝရဘုရား ပေး တော်မူ
သောပြည်သည် ကောင်းသော ပြည်ဖြစ်၏ ဟု
၂၆ ကြားပြောကြသော်လည်း။-သင်တို့သည် မသွား
ဘဲ၊ သင်တို့ဘုရားသခင်ထာဝရဘုရား၏ အမိန့်
၂၇ တော်ကိုဆန့်ကျင်လျက်၊-ထာဝရဘုရားသည်ငါတို့
ကိုမုန်း၍ ဖျက်ဆီးချင်သောကြောင့်၊ အာမောရိ
လူတို့လက်၌ အပ်လိုသော၄ှါ၊ အဲဂုတ္တုပြည်မှ
၂၈ နှုတ်ဆောင်တော်မူသည်တကား။- ငါတို့သည်
အဘယ်သို့သွားရမည်နည်း၊ ညီအစ်ကိုတို့က၊
ထိုပြည်သားတို့သည် ငါတို့ထက်သာ၍ကြီး၏၊
အရပ်ထည်းသာ၍မြင့်၏၊ မြို့လည်းမိုဃ်းကောင်း
ကင်သို့ထိသောမြို့ရိုးတည်း၌ရှိ၏၊ ထိုပြည်၌လည်း၊
အာနကအမျိုးသားတို့ကိုမြင်ရ၏ဟု၊ ငါတို့စိတ်
ကိုဖျက်ကြပြီဟု၊ သင်တို့သည်လဲမှာ၌ဆန့်ကျင်
၂၉ ထက်ပြုကြ၏။- ထိုအခါ ငါက၊ မထိတ်လန့်ကြ
၃၀ နှင့်၊ သူတို့ကိုမကြောက်ကြနှင့်။- သင်တို့ရှေ့မှာ
ကြွတော်မူသော၊ သင်တို့၏ ဘုရားသခင်ထာဝရ
ဘုရားသည်သင်တို့မျက်မှောက်၊ အဲဂုတ္တုပြည်
၃၁ ၌၎င်း၊-သင်တို့လိုက်လာသော လမ်းတရှောက်
လုံး၊ ဤအရပ်တိုင်အောင်၊ အဘသည်သားကိုချီ
ပိုက် သကဲ့သို့၊ သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရားသည်သင်တို့ကိုချီပိုက်တော်မူသောကျေး
ဇူးတော်ကိုခံရာတော၌၎င်း၊သင်တို့အဘို့ပြုတော်
မူသကဲ့သို့၊သင်တို့ထက်၌ စစ်ကူတော်မူမည်ဟု
၃၂ ဆိုသော်လည်း။- သင်တို့သည်စကားနားမထောင်
၃၃ ကို၍၊ သင်တို့ သွား ထတ်သော လမ်းကို ပြ
ခြင်း၄ှါ ညည့်အခါမီးနှင့်၎င်း၊ နေ့အခါမိုဃ်းတိမ်
နှင့်၎င်း၊ သင်တို့ရှေ့မှာ ကြွတော် မူသော၊ သင်တို့
ဘုရားသခင်ထာဝရဘုရား၏စကားတော်ကိုထို
၃၄ အမှု၌သင်တို့မယုံကြပါတကား။-သင်တို့စကား
သံကိုထာဝရဘုရားကြား၍အမျက်တော်ထွက်
၃၅ လျက်၊- သူတို့ဘိုးတော်တို့အား ငါပေးမည်ဟု
ငါကျိန်ဆိုသော ပြည် ကောင်းကို၊ ယခုမှာ ဆိုး
သော လူသက်မှတပါး၊ ဤဆိုးသောလူမျိုးထဲ၌
၃၆ တယောက်မျှ ထက်ထက်မမြင်ရ။- ယေဖုန္နာ၏သား
ကာလက်သာ ထာဝရ ဘုရား နောက်တော်သို့ လုံးလုံး လိုက်
သောကြောင့်မြင်ရ၏၊ သူနင်းသောပြည်ကို သူ
မှစ၍သူ၏သားမြေးတို့အား ငါပေးမည်ဟုကျိန်
၃၇ ဆိုတော်မူ၏။- သင်တို့အတွက်၊ ထာဝရ ဘုရား
သည် ငါ့ကိုလည်း အမျက်တော် ထွက်၍၊ သင်
၃၈ သည်ထိုပြည်သို့မဝင်စားရ။-သင့်ထက်တော်
နုန်၏သားယောရှုသည်ဝင်စားရမည်။သူသည်
ဣသရေလ အမျိုးသား အမွေ ခံစေမည်သူ ဖြစ်
၃၉ သောကြောင့်၊သူကို အားပေးလော့။- ရန်သူလု
ယူရာဖြစ်မည်ဟု၊ သင်တို့ဆိုသောသူငယ်များ၊
ထိုအခါ ကောင်းမကောင်းကို ပိုင်းခြားမသိနိုင်
သေးသောသားသမီးများတို့သည် ထိုပြည်ကိုဝင်
စား၍၊ ငါပေးသည် အတိုင်း သိမ်းယူ ကြလိမ့်
၄၀ မည်။-သင်တို့မူကား၊လှည့်၍ဧရိပင်လယ်လမ်း
ဖြင့်တောသို့ ခရီးသွားကြဦးလော့ဟု မိန့်တော်
မူ၏။
၄၁ သင်တို့ကလည်း၊ အကျွန်ုပ်တို့သည်ထာဝရ
ဘုရားကိုပြစ်မှားမိပါပြီ၊ အကျွန်ုပ်တို့ဘုရားသ
ခင် ထာဝရ ဘုရား မှာထား တော် မူသမျှ အ
တိုင်း၊ တက်သွား၍စစ်တိုက်ပါမည်ဟု၊ ပြော
လျှောက်ဆိုလျက်၊ လူအပေါင်းတို့သည် ထက်
နက်စွဲကိုင်လျက်၊ တောင်ပေါ်သို့ တက်ခြင်း၄ှါ
၄၂ အသင့်နေကြ၏၊-ထာဝရဘုရားကလည်း၊တက်
၍မတိုက်ကြနှင့်၊ သင်တို့ထက်၌ ငါမရှိ၊ ထိုသို့
လျှင်၊ရန်သူရှေ့မှာရှုံးရကြလိမ့်မည်ဟု၊ သင်တို့
အား ဆင့်ဆိုရမည်အကြောင်း၊ ငါ့အားမိန့်တော်
၄၃ မူသည်အတိုင်း။- ငါဆင့်ဆိုသော်လည်း၊ သင်
တို့သည် နားမထောင်၊ ထာဝရဘုရား၏ အမိန့်
တော်ကိုဖြင်းဆန်၍၊ မိုက်ခဲ့သောစိတ်နှင့်တောင်
၄၄ ပေါ်သို့တက်ကြ၏။- ထိုအခါ တောင်ပေါ်မှာရှိ
နှင့်သောအာမောရိအမျိုးသားတို့သည် သင်တို့

တဖက်၌ ထွက်လာလျက်၊ ပျားများတို့၏လိုက်
သကဲ့သို့၊ သင်တို့ကိုလိုက်၍၊ စိရအရပ်၊ ဟော
၄၅ မာမြို့တိုင်အောင်ဖျက်ဆီးကြ၏။- သင်တို့သည်
လည်း ပြန်လာ၍၊ ထာဝရဘုရား ရှေ့တော် ၌ ငို
ကြွေးကြ၏။ သို့သော်လည်း၊၊ သင်တို့ စကားကို
၄၆ ထာဝရဘုရားနားထောင်၊ နားယူတော်မမူ။-ထို
ကြောင့် ကာဒေရှအရပ် ၌ အရင် နေသကဲ့ သို့၊
ကြာမြင့်စွာနေပြန်ရကြ၏။

၂

၁ တဖန်ထာဝရဘုရားသည် ငါ့အားမိန့်တော်မူ
သည်အတိုင်း၊၊ငါတို့သည်လှည့်၍၊ဧဒုံပင်လယ်
လမ်းဖြင့်တောသို့ခရီးသွားလျက်၊ စိရတောင်
၂ ကိုကြာမြင့်စွာ လှည့် လည် ကြ၏။- ထာဝရ
၃ ဘုရားကလည်း၊ သင်တို့သည်ကာလအချိန်စေ့
အောင် ဤတောင်ကို လှည့်လည်ကြပြီ၊ တဖန်
၄ မြောက်မျက်နှာသို့သွားကြဦးလော့။-သင်သည်
လူများတို့အား ဆင့်ဆိုရမည်မှာ၊ သင်တို့၏ညီ
အစ်ကိုဧသောအမျိုးသားတို့နေသော စိရပြည်အ
နားမှာ၊ သင်တို့ ရှောက်သွားသောအခါ၊သူတို့
သည်ကြောက်ကြလိမ့်မည်၊ထိုကြောင့်သတိပြု
၅ ကြလော့။- သူတို့ကို အလျှင်းမပြုကြနှင့်၊သူတို့
ပြည်ကို သင်တို့အားငါမပေး၊ ခြေနင်းရာခန့်ကို
မျှမပေး၊ စိရတောင်ကို ဧသောအား၊ငါအပိုင်ပေး
၆ ပြီ။-သင်တို့သည်စားဖို့ရာအစာကိုငွေ၊သောက်
ဖို့ရာရေကိုငွေ သူတို့ထံ ငွေနှင့်ဝယ်ရကြမည်။-
၇ သင်တို့ပြုလေရာရာ၌သင်တို့၏ဘုရားသခင်ထာ
ဝရဘုရားသည် ကောင်းကြီး ပေးတော်မူပြီ၊ ဤ
တောကြီး၌သင်တို့လှည့်လည်သောအကြောင်း
အရာတို့ကိုသိတော်မူ၏၊ အနှစ်လေးဆယ်ပတ်
လုံး သင်တို့၏ဘုရားသခင် ထာဝရဘုရားသည်
သင်တို့နှင့်အတူရှိတော်မူသည်ဖြစ်၍၊ သင်တို့၌
လာမျှမလိုဟု ဆင့်ဆိုရ၏။
၈ စိရပြည်မှာနေသော၊ ငါတို့ညီအစ်ကိုဧသော
အမျိုးသားတို့အနား၌ ရှောက်လျက် ဧလပ်မြို့၊
ဧဇယုန်ဂါဗာမြို့မှ သွားသော လွင်ပြင်လမ်းသို့
လိုက်ပြီးလျှင်၊ တဖန်လှည့်၍၊မောဘတောလမ်း
၉ ဖြင့်သွားကြ၏။- ထာဝရဘုရားကလည်း၊မော
ဘပြည်သားတို့ကိုမနှောင့်ရှက်နှင့်၊စစ်မတိုက်
နှင့်၊ သူတို့ပြည်ကို သင့်အား ငါအပိုင်မပေး၊
အာရပြည်ကို လောတအမျိုးသားတို့အား ငါအ
၁၀ ပိုင်ပေးပြီဟု၊ငါ့အားမိန့်တော်မူ၏။- ရှေးကာလ
၌ အာနက အမျိုးသားကဲ့သို့ ကြီးမြင့်များပြား
သောလူ၊ ဧမိမ်အမျိုးသားတို့သည် ထိုပြည်မှာ
၁၁ နေကြ၏။-ထိုသူတို့သည်အာနကအမျိုးသားကဲ့
သို့၊ အလွန်ကြီးမားသောလူတို့အဝင်ဖြစ်သည်
ကို လူများထင်မှတ် ကြ၏၊ သို့ရာတွင်၊ မောဘ
ပြည် သားတို့သည် ထိုသူတို့ကို ဧမိမ်ဟူ၍ ခေါ်
၁၂ ကြ၏။-ရှေးကာလ၌ ဟောရိလူတို့သည်လည်း
စိရပြည်မှာနေကြ၏၊ ထိုသူတို့ကို ဧသောအမျိုး
သားတို့သည်လုတ်သင်ပယ်ရှင်း၍၊သူတို့နေရာ
၌နေကြ၏၊ ထိုအတူ၊ ထာဝရဘုရား အပိုင်ပေး
တော်မူသောပြည်ကို ဣသရေလအမျိုးသားတို့
၁၃ သည် ပြုရ ကြ သတည်း။- ယခု ထ ၍ ဇေရက်
ချောင်းကို ကူးကြလော့ဟု မိန့်တော်မူသည်အ
တိုင်း၊ သင်တို့သည်ဇေရက်ချောင်းကို ကူးကြ
၁၄ ၏။-ကာဒေရှဗာနာအရပ်သို့အရင်ရောက်သော
ကာလမှစ၍၊ ဇေရက် ချောင်းကို ကူးသောကာ
လတိုင်အောင်၊ နှစ်ပေါင်း သုံးဆယ်ရှစ်နှစ်လွန်
သတည်း၊ ထာဝရဘုရား ကျိန်ဆိုတော်မူသည်
အတိုင်း၊၊အရင်စစ်သူရဲမျိုးအပေါင်းတို့သည်လူ
အလုံးအရင်းထဲကသေကြေကွယ်ပျောက်ရကြ
၁၅ ၏။-ထိုသူတို့မကွယ်မပျောက်မှီတိုင်အောင်၊ထာ
ဝရဘုရား သည် သူတို့ကို ဥလုံး အရင်း ထဲက
ပယ်ရှားခြင်းငှါလက်တော်ကိုဆန့်တော်မူ၏။
၁၆ စစ်သူရဲအပေါင်းတို့သည်လူစုထဲကသေကြေ
၁၇ ကွယ် ပျောက် ပြီးမှ၊- ထာဝရ ဘုရားက၊ သင်
၁၈ သည်မောဘပြည်၊ အာရနယ်အလယ်၌ယနေ့
၁၉ ရှောက်သွားရမည်။- အမ္မုန်အမျိုးသားတို့အ
နီးသို့ရောက်သောအခါ၊ သူတို့ကိုမနှောင့်ရှက်
နှင့်၊ အလျှင်းမပြုနှင့်၊ အမ္မုန် အမျိုးသားနေ
သောပြည်ကိုသင့်အားငါအပိုင်မပေး၊ထိုပြည်
ကိုလောတအမျိုးသားတို့အား ငါအပိုင်ပေးပြီ
၂၀ ဟု၊ငါ့အားမိန့်တော်မူ၏။- ထိုပြည်ကိုလည်း၊အ
လွန် ကြီးမားသော သူတို့၏ နေရာဖြစ်သည်ဟု၊
လူများထင်မှတ်ကြ၏၊ရှေးကာလ၌ ထိုသို့သော
လူတို့သည်နေကြ၏၊သူတို့ကိုအမ္မုန်ပြည်သား
၂၁ တို့သည် ဇာရုမ္မိမ် ဟူ၍ ခေါ်ကြ၏။- ထိုလူမျိုး
၂၂ သည် အာနက အမျိုးသား ကဲ့သို့ ကြီးမြင့် များ
ပြားသောလူဖြစ်ကြ၏၊သို့သော်လည်း၊ စိရပြည်
၌နေသောဧသောအမျိုးသားရှေ့မှာ ဟောရိလူ
တို့ကို ထာဝရဘုရားဖျက်ဆီးတော်မူသဖြင့်၊သူ
တို့နေရာ၌ ဧသော အမျိုး သားတို့သည် ယနေ့
တိုင်အောင် နေကြသကဲ့သို့၊ အမ္မုန် အမျိုးသား
ရှေ့မှာ ဇာရုမ္မိမ်လူတို့ကိုသုတ်သင်ပယ်ရှင်းတော်

ရှုံးစေ၍၊ သူတို့နေရာ၌ အစ္စုန်အမျိုးသားတို့
၂၃ သည်နေကြ၏။- ထိုအတူ၊ ကဗ္ဘရမိ မြို့မှစ၍၊
အဇ္ဇာမြို့တိုင်အောင် နေသောအာဗိမ်လူတို့
ကို၊ ကဗ္ဘောရမြို့မှထွက်သော ကဗ္ဘောရမိလူ
တို့သည်ဖျက်ဆီး၍၊သူတို့နေရာ၌နေကြ၏။
၂၄ သင်တို့သည်ထ၍၊ ခရီးသွားသဖြင့် အာနုန်
မြစ်ကိုကူးကြလော့။ အာမောရိအမျိုး၊ ဟေရှ
ဘုန်ရှင်ဘုရင်ရှိဟုန်နှင့်သူ၏မြေကိုသင်တို့လက်
၌ငါအပ်သောကြောင့်၊ ထိုမြေကို သိမ်းစပြု၍၊
၂၅ ထိုမင်းကို စစ်တိုက်ကြလော့။- မိုဃ်းကောင်း
ကင်အောက်၌ရှိသမျှသောလူမျိုးတို့သည်သနေ့
သင်တို့ကိုကြောက်ရွံ့ထိတ်လန့်စရှိမည်အ
ကြောင်းငါပြုမည်။ သင်တို့၏သိတင်းကိုကြား
၍၊ တုန်လှုပ်ခြင်း၊ မိုးရိမ်ကြောင့်ကြခြင်းသို့
၂၆ ရောက်ကြလိမ့်မည်ဟုမိန့်တော်မူ၏။- ငါသည်
လည်း၊ ကေဒမုတ်တောမှ၊ဟေရှဘုန်ရှင်ဘုရင်
ရှိဟုန်မင်းထံသို့သံတမန်တို့ကိုစေလွှတ်လျက်၊-
၂၇ မင်းကြီး၏ပြည်အထဲ၌ ကျွန်ုပ်ရှောက်သွား
ပါရစေ။မင်းလမ်းသို့သာလိုက်ပါမည်၊ လက်ျာ
၂၈ ဘက်၊ လက်ဝဲဘက်သို့မလွှဲပါ။- စီရပြည်၌နေ
၂၉ သောဧသောအမျိုးသား၊ အာရပြည်၌နေသော
မောအဘအမျိုးသားတို့သည် ကျွန်ုပ်၌ပြုသကဲ့သို့
ကျွန်ုပ်စားဖို့ရာအစာကိုငင်၊သောက်ဖို့ရာရေကို
ငင်၊မင်းကြီးသည်ငွေနှင့်ရောင်းပါလော့၊ကျွန်ုပ်
တို့ဘုရားသခင်ထာဝရဘုရားပေးတော်မူသော
ပြည်သို့ ကျွန်ုပ်သည် ယော်ဒန်မြစ်ကို ကူး၍ မ
ရောက်မှီတိုင်အောင် မင်းကြီး၏ပြည် အထဲ၌
ခြေဖြင့်သွားရုံမျှသာပြုပါမည်ဟု၊မိဿဟာယ
၃၀ စကားနှင့်ပြောဆိုသော်လည်း၊-ကျွန်ုပ်တို့ရှောက်
သွားရသော အခွင့်ကို ဟေရှဘုန် ရှင်ဘုရင်ရှိ
ဟုန်မင်းသည်မပေး၊ အကြောင်းမူကား၊ယနေ့
ထင်ရှားသည် အတိုင်း၊ သင်တို့၏ ဘုရားသခင်
ထာဝရဘုရားသည် ထိုမင်းကို သင်တို့လက်၌
အပ်ခြင်းငှါ၊ခက်ထန်သောစိတ်သဘော၊မိုင်မာ
၃၁ သောနှစ်လုံးကိုသူ၌ပေးသွင်းတော်မူ၏။-ထာဝ
ရဘုရားကလည်း၊ ရှိဟုန်မင်းနှင့် သူ၏မြေကို
သင့်အား ငါပေးစပြု၏၊ ထိုမြေကို အမွေခံအံ့
သောငှါ၊ သိမ်းစပြုလော့ဟု၊ ငါ့အားမိန့်တော်မူ
၃၂ ၏။- ထိုအခါရှိဟုန်မင်းသည် သူ၏လူအပေါင်း
တို့နှင့်တကွယာဟတ်မြို့မှာငါတို့ကို တိုက်ခြင်း
၃၃ ငှါ ထွက်လာ၏။- ငါတို့ဘုရားသခင် ထာဝရ
ဘုရားသည် ထိုမင်းကို ငါတို့၌ အပ်တော်မူသ
ဖြင့်သူမှစ၍သားများ၊ လူများအပေါင်းတို့ကိုငါ
၃၄ တို့သည်လုပ်ကြကြ၏။- ထိုအခါသူ၏ မြို့ရှိသမျှ
တို့ကိုတိုက်ယူ၍၊ ယောကျ်ားမိန်းမ သူငယ်တို့ကို
တယောက်မျှမကြွင်းစေခြင်းငှါ၊ ရှင်းရှင်းဖျက်
၃၅ ဆီးကြ၏။-တိရိစ္ဆာန်များ၊ မြို့ရွာ၌လက်ရဥစ္စာ
၃၆ များကိုသာ ကိုယ်အို့ သိမ်းယူကြ၏။- အာနုန်
မြစ်နား၌ရှိသောအာရော်မြို့မှစ၍၊ဂိလဒ်မြို့တိုင်
အောင်၊မြစ်နား၌ရှိသမျှသော မြို့တို့တွင်ငါတို့မ
အောင်နိုင်သော မြို့တမြို့မျှမရှိ၊ ငါတို့ဘုရားသ
ခင်ထာဝရဘုရားသည် အလုံးစုံတို့ကို ငါတို့၌
၃၇ အပ်တော်မူ၏။- သို့ရာတွင်၊ အမ္မုန်အမျိုးသား
နေသောမြေ၊ ယဗ္ဗုတ်မြစ်နှင့် ဆိုင်သော မြေ၊
တောင်ရိုးမြို့အစရှိသော၊ငါတို့ဘုရားသခင်ထာ
ဝရဘုရား မြစ်တားတော်မူသော အရပ်တစုံတခု
ကိုမျှမချဥ်းရကြ။

၃

၁ ထိုအခါ ငါတို့သည်လှည့်၍၊ ဗာရှန်ပြည်သို့
ခရီးသွားကြ၏။ ဗာရှန်ရှင် ဘုရင် ဩဃသည်
လည်း မိမိလူ အပေါင်းတို့နှင့်တကွ ဧဒြေအရပ်
၂ မှာစစ်တိုက်ခြင်းငှါ ချီလာ၏။- ထာဝရဘုရား
ကလည်း၊သူကိုမကြောက်နှင့်၊သူနှင့်တကွသူ၏
လူအပေါင်းတို့ကိုငင်၊သူ့မြေကိုငင်၊သင့်လက်၌
ငါအပ်ပေးမည်၊ ဟေရှဘုန်မြို့နေ အာမောရိရှင်
ဘုရင်ရှိဟုန်ကိုပြုသကဲ့သို့၊ ဤမင်းကိုလည်းပြု
၃ ရမည်ဟု၊ ငါ့အား မိန့်တော်မူ၏။- ထိုသို့ငါတို့
ဘုရားခင်ထာဝရဘုရားသည်၊ဗာရှန်ရှင်ဘုရင်
ဩဃနှင့်သူ၏လူအပေါင်းတို့ကို ငါတို့လက်၌
အပ်တော်မူသဖြင့်၊ တယောက်မျှမကြွင်းစေ
၄ ခြင်းငှါ လုပ်ကြကြ၏။- ထိုအခါ ငါတို့သည်မြို့
ခြောက်ဆယ်နှင့်ပြည့်စုံသော အာဂေါဘတိုင်း၊
ဗာရှန်ရှင်ဘုရင်ဩဃမင်း၏နိုင်ငံကို၊ တမြို့မျှမ
၅ ကြွင်းစေခြင်းငှါတိုက်ယူကြ၏။-ထိုမြို့ရှိသမျှတို့
သည်၊ မြင့်သောမြို့ရိုး၊ မြို့တံခါးများ၊ ကန့်လန့်
ကျင်များနှင့်ခိုင်ခံ့သောမြို့ဖြစ်သတည်း။ ထိုမှတ
ပါး၊ များစွာသော ရွာတို့ကိုလည်း တိုက်ယူ၍၊
၆ ရှင်းရှင်းဖျက်ဆီးကြ၏။- ဟေရှဘုန်ရှင်ဘုရင်ရှိ
ဟုန်ကိုပြုသကဲ့သို့၊ အရပ်ရပ်၌ ယောကျ်ားမိန်း
၇ သူငယ် တို့ ကို သုတ်သင် ပယ်ရှင်းကြ၏။- တိ
ရိစ္ဆာန်များ၊ မြို့ရွာ၌လက်ရဥစ္စာများ ရှိသမျှတို့
၈ ကိုကိုယ်အို့သိမ်းယူကြ၏။- ထိုအခါ အာနုန်မြစ်
မှစ၍ ဟေရမုန်တောင်တိုင်အောင်၊ ယော်ဒန်မြစ်
အရှေ့ဘက်၌ရှိသောမြေကိုငါတို့သည်သိမ်းယူ

၉ ကြ၏။- ဟေရမုန်တောင်ကို ဇိဒုန်လူတို့သည်ဇိ
ရှုန်ဟူ၍၎င်း၊ အာမောရိလူတို့သည် ရှေနိရဟူ၍
၁၀ ၎င်းခေါ်ကြ၏။-လွင်ပြင်၌ရှိသမျှသောမြို့တို့နှင့်
ဂိလဒ်ပြည်တရှောက်လုံး၊ ဩဃမင်း၏နိုင်ငံအ
ဝင်၊ သာလကမြို့၊ ဧဒြေမြို့တိုင်အောင်ဗာရှန်ပြည်
၁၁ တရှောက်လုံးကို သိမ်းယူကြ၏။- အလွန်ကြီး
မားသောလူမျိုး၌ ဆင်းသက်သောဗာရှန်ရှင်ဘု
ရင် ဩဃတယောက်တည်း ကျန်ကြွင်း၏။
လူ့အတောင်အားဖြင့်၊ အလျားကိုးတောင်၊ အနံ
လေးတောင်ရှိသော၊ သူ၏သံ ခုတင်သည် အမ္မုန်
ပြည်ရဗ္ဗတ်မြို့၌ရှိသည်မဟုတ်လော။
၁၂ ထိုအခါ ငါတို့သိမ်းယူသောမြေကို၊ အာနုန်
မြစ်နားထွင်ရှိသော အာရော်မြို့မှစ၍၊ ဂိလဒ်
တောင်တဝက်တိုင်အောင်၊ မြို့ရွာနှင့်တကွ ရု
ဗင်အမျိုးသား၊ ဂဒ်အမျိုးသားတို့အား ငါပေး
၁၃ ၏။-ဂိလဒ်တောင်တဝက်နှင့် ဩဃမင်းအမှီရ
သောနိုင်ငံအဝင်၊ အလွန်ကြီးမားသောလူမျိုး
နေရာဟူ၍ခေါ်ဝေါ်သော အာဂေါဘ်တတိုင်း၊ ဗာ
ရှန်ပြည် တပြည်လုံးကို မနာရှေအမျိုးသားတ
၁၄ ဝက်အားငါပေး၏။- မနာရှေအမျိုးသားယာဣ
ရသည်၊ အာဂေါဘ်တတိုင်းလုံးကိုဂေရှုရ
ရွာ၊ မာခါရွာအထိ သိမ်းယူပြီးမှ၊ ထိုရှေ့ တိုင်
အောင်မိမိအမည်ကို ထိုက်၍၊ ဗာရှန်ထာဝုတ်
၁၅ ယာဣရ ပြည်ဟု သမုတ်လေ၏။- ဂိလဒ်မြို့ကို
၁၆ ထား၊ မာခိရအမျိုးသားတို့အား ငါပေး၏။-ရု
ဗင်အမျိုးသား၊ ဂဒ်အမျိုးသားတို့အားလည်း၊
ဂိလဒ်မြို့မှအာနုန်မြစ်တိုင်အောင်၊မြစ်ကျွဲသော
မြေ နှင့် တကွ၊ အမ္မုန်ပြည် အပိုင်း အခြား မြစ်
ဖြစ်သောယဗ္ဗုတ်မြစ်တိုင်အောင် မြေတရှောက်လုံး
၁၇ ကို၎င်း၊- လွင်ပြင်နှင့်တကွ ယော်ဒန် မြစ်နား
ခိန္နရက် အရပ်မှ လွင်ပြင် နှင့် ဆိုင် သော
သောငံ ဆိုင် အ ရှေ့၊ အာရုတ်ပိသဂါ မြို့ တိုင်
အောင်မြေတရှောက်လုံးကိုငါပေး၏။
၁၈ ထိုအခါငါက၊ သင်တို့၏ ဘုရားသခင်ထာဝရ
ဘုရားသည် ဤမြေကို သင်တို့အား အပိုင် ပေး
တော်မူပြီ။ သို့ရာတွင်၊ စစ်တိုက် တတ်သောသူ
အပေါင်းတို့သည်ထက်နက်ကို ကိုင်၍၊ သင်တို့
ညီအစ်ကို ဣသရေလ အမျိုးသားတို့ ရှေ့မှာကူး
၁၉ သွားရကြမည်။- ထာဝရဘုရားသည် သင်တို့
၂၀ အားချမ်းသာပေးတော်မူသည်နည်းတူ၊ ညီအစ်
ကိုတို့အားပေးတော်မမူမှီတိုင်အောင်၎င်း၊ ယော်
ဒန်မြစ်တဘက်၌ သင်တို့၏ဘုရားသခင် ထာဝရ
ဘုရား ပေး တော် မူ သော မြေကို သူတို့ သည် မ
သိမ်း မယူ မှီ တိုင်အောင် ၎င်း၊ သင် တို့ မယား၊
သားသူငယ်များ၊ တိရိစ္ဆာန်များတို့သည်ငါပေး
သောမြို့တို့၌နေရကြမည်။ သင်တို့တွင်တိရိစ္ဆာန်
များစွာရှိသည်ကိုငါသိ၏။ အမှုပြီးမှ၊ ငါပေးနှင့်
ပြည်အတိုင်း၊ သင်တို့ရှိသမျှသည်အသီးအသီး
ပိုင်ထိုက်သောမြေသို့ပြန်လာရကြမည်ဟု၊ သင်
၂၁ တို့အားငါမှာထား၏။- ထိုအခါယောရှုကိုလည်း။
သင်၏ဘုရားသခင် ထာဝရဘုရားသည် ဤရှင်
ဘုရင်နှစ်ပါး၌ ပြုတော်မူသော အမှုအလုံးစုံကို
သင်သည်ကိုယ်တိုင်မြင်ရပြီ။ ထိုနည်းတူ၊ထာဝရ
ဘုရားသည်သင်ရောက်သမျှသောတိုင်းနိုင်ငံတို့
၂၂ ၌ပြုတော်မူလိမ့်မည်။- ထိုသူတို့ကို မကြောက်
နှင့်။ သင်၏ဘုရားသခင်ထာဝရဘုရားသည်သင့်
ထက်၌စစ်ကူတော်မူမည်ဟုငါမှာထားလေ၏။
၂၃ ထိုအခါထာဝရဘုရားကိုငါတောင်းပန်သည်
၂၄ ကား။- အိုအရှင်ထာဝရဘုရား၊ ကိုယ်တော်သည်
ကိုယ်တော် ကျွန်အား တန်ခိုး အာနုဘော်တော်
ကို၎င်း၊ အားကြီးသောလက်တော်ကို၎င်းပြစ မြူ
တော်မူပြီ။ ကိုယ်တော်ပြုရင်၍ တန်ခိုးတော်ကို
ပြသည်အတိုင်း၊ ကောင်းကင်မြေကြီးပေါ်မှာအ
၂၅ ထယ်မည်သော ဘုရား ရှိ နိုင်ပါ သနည်း။- အ
ကျွန်ုပ်သည် ယော်ဒန်မြစ် တဘက်သို့ ကူး၍၊ ထို
ကောင်းမွန်သောပြည်နှင့် လေဗ နုန် တောင်မှစ
၍၊ တင့်တယ်သောတောင်များ ကိုမြင်ရမည်အ
ကြောင်း၊ အခွင့်ပေးတော်မူပါဟု တောင်းပန်
၂၆ သော်လည်း။- ထာဝရဘုရား သည် သင်တို့အ
တွက် ငါကို အမျက်ထွက်တော်မူသောကြောင့်၊
စကားကို နားထောင်တော်မမူ။ ထာဝရဘုရား
က လည်း၊ တန် လော့၊ ဤ အ မှု နှင့် ဆိုင် သော
၂၇ စကား ကိုနောက်တဖန်မလျှောက်နှင့်။-ပိသဂါ
တောင်ထိပ်ပေါ်သို့တက်ပြီးလျှင်၊ အနောက်၊ အ
ရှေ့၊ တောင်၊မြောက်၊ ထေးရှုတ်နှာသို့ မျှော်
၍၊ ထိုပြည်ကိုကြည့်ရှုလော့။ ယော်ဒန်မြစ်ကိုမ
၂၈ ကူးရ။- သို့ရာတွင်၊ ယောရှုကိုမှာခဲ့၍အားပေး
လော့။ မစသောက်ပင့်လော့။ သူသည် ဤလူမျိုး
ရှေ့မှာသွား၍၊ သင်မြင်ရသော ပြည်ကို အမွေခံ
၂၉ စေရမည်ဟု၊ ငါအားမိန့်တော်မူ၏။- ထိုသို့ငါတို့
သည်၊ ဗက်ပေဂုရမြို့တဘက်၌ ရှိသောချိုင့်တွင်
နေရကြ၏။

၄

အိုဣသရေလအမျိုးသားတို့၊ တရားစီရင်ထုံးတို့ကို၊ ငါသွန်သင်သည်အ

သက်ရှင်၍၊ သင် တို့ ဘိုး ဘေး ကိုးကွယ် သော
ဘုရား သခင် ထာဝရဘုရား ပေးတော် မူသော
ပြည်ကိုဝင်စားမည် အကြောင်း၊ သင်တို့ကျင့်စ
ရာဖို့ငါသွန်သင်သောစီရင်ထုံးဖွဲ့ချက်တို့ကိုနား
၂ ထောင်ကြလော့။- ငါမှာထားသော စကား၌
သင်တို့သည်အသစ်မသွင်းရ၊ အလျှော့မနှုတ်မ
ပယ်ရ။ ငါမှာထားသည့်အတိုင်း၊ သင်တို့ဘုရား
သခင်ထာဝရဘုရား၏ပညတ်တော်တို့ကိုစောင့်
၃ ရှောက်ရကြမည်။- ထာဝရဘုရားသည် ဗာလ
ပေဂုရကြောင့် ပြုတော် မူ သော အမှု ကို သင်တို့
သည် ကိုယ် တိုင် မြင်ရ ကြပြီ၊ ဗာလပေဂုရ၌
ဆည်းကပ် သော သူ အပေါင်း တို့ကို သင်တို့၏
ဘုရားသခင် ထာဝရဘုရားသည် သင်တို့ အထဲ
၄ ကသုတ်သင်ပယ်ရှင်းတော်မူပြီ။-သင်တို့ဘုရား
သခင်ထာဝရ ဘုရား၌ မှီဝဲသမျှသော သင်တို့မူ
ကား၊ ယနေ့တိုင်အောင် အသက် ရှင်ရ ကြ၏။-
၅ သင်တို့သည်သွား၍ ဝင်စားသောပြည်၌ကျင့်စ
ရာတို့၊ ငါ၏ဘုရားသခင်ထာဝရဘုရား မှာထား
တော်မူသည် အတိုင်း၊ စီရင်ထုံးဖွဲ့တော် မူချက်
၆ တို့ကိုသင်တို့အား ငါသွန်သင်ပြီ။- သို့ဖြစ်၍၊ ထို
ပညတ် တရားတို့ကို ကျင့်စောင့်ကြလော့။ သို့ပြု
လျှင်၊ ထိုပညတ် တရား ရှိသ မျှ တို့ကို ကြားရ
သောလူမျိုးများရှေ့မှာ၊ သင်တို့၏ဉာဏ်ပညာ
သည်ထင်ရှားလိမ့်မည်၊ သူတို့ကလည်း၊ ဤကြီး
မြတ်သောလူမျိုးသည် အကယ်စင်စစ် ဉာဏ်
ပညာ နှင့် ပြည့်စုံ သော အမျိုး ဖြစ်၏ ဟု ဆိုကြ
၇ လိမ့်မည်။- ငါတို့သည် ဆုတောင်းလေရာရာ၌၊
ငါ တို့ဘုရား သခင် ထာဝရဘုရား ကြည့်ရှုပြုစု
တော် မူခြင်း ကျေးဇူးကို ခံရ သည်နည်းတူ၊ အ
ခြားသော ဘုရားကြည့် ရှုပြု စုသော ကျေးဇူးကို
၈ အဘယ်မည်သော လူမျိုးကြီးခံရသနည်း။- ငါ
သည်ယနေ့ သင်တို့၌ထားသောတရားအပေါင်း
နှင့်အမျှဖြောင့်မတ်သောစီရင် ထုံးဖွဲ့ချက်တို့ကို
၉ ရသော အဘယ်လူမျိုးကြီး ရှိသနည်း။- သင်တို့
သည်၊ ဟောရပ်အရပ်မှာ၊ သင်တို့၏ဘုရားသခင်
ထာဝရဘုရားရှေ့တော်၌ ရပ်နေကြသောအခါ၊
ကိုယ် တိုင် မြင် သော အမှု အရာ တို့ ကို မမေ့မ
လျော့၊ နောက်တသက်လုံး နှစ်လုံးသွင်း နိုင်မည်
အကြောင်း၊ ကိုယ်ကိုကိုယ်သတိ ပြုကြလော့၊
ကိုယ် စိတ် နှစ် လုံးကို ကြိုးစား၍ စောင့်ရှောက်
ကြလော့၊ ထိုအရာတို့ကိုသားမြေးတို့အားလည်း
၁၀ သွန်သင်ကြလော့။- ထိုအခါထာဝရဘုရားက၊

လူများတို့ကိုငါ့ထံမှာစုဝေးစေလော့၊ သူတို့သည်
မြေကြီးပေါ်မှာ အသက် ရှင်သမျှ သော ကာလ
ပတ်လုံး ငါ့ကို ကြောက်ရွံ့၍၊ သားမြေး တို့အား
သွန်သင် စေ ခြင်းငှါ၊ ငါ့ စကား ကို ကြားစေမည်
၁၁ ဟု ငါ့အား မိန့်တော် မူ သည် အတိုင်း၊- သင်တို့
သည် အနီး တော်သို့ ချဉ်းကပ်၍၊ တောင်ခြေ
ရင်း၌ ရပ် နေ ကြ ၏၊ တောင် ထိပ် သည် မိုဃ်း
ကောင်းကင် အလယ် ၌ မီးတောက်လျက်၊ မည်း
သော အဆင်း၊ မိုဃ်းတိမ်တိုက်၊ ထူထပ်သော
၁၂ မှောင်မိုက် နှင့် ပြည့်စုံလေ၏။- ထာဝရ ဘုရား
သည်လည်း၊ မီးထဲကသင်တို့အားမိန့်မြွက်တော်
မူ၏၊ သင်တို့သည်သဏ္ဍာန်တော်ကိုမမြင်ရဘဲ၊
၁၃ စကားတော်အသံကိုသာကြားရကြ၏။-သင်တို့
ကျင့် စရာ တို့ မှာ ထား တော် မူ သော ပဋိညာဉ်
တရားတည်းဟူသော၊ ပညတ်တော်ဆယ်ပါးတို့
ကိုမိန့်မြွက်၍၊ ကျောက်ပြားနှစ်ပြားပေါ်၌ရေး
၁၄ ထားတော်မူ၏။- သင်တို့သည် သွား၍ ဝင်စား
သောပြည်၌ ကျင့်စရာတို့၊ သင်တို့အား ငါသွန်
သင်ရသောစီရင်ထုံးဖွဲ့ချက်တို့ကိုလည်း၊ ထိုအ
ခါ ထာဝရ ဘုရားသည် ငါ့အား မှာထား တော်
မူ၏။
၁၅ ဟောရပ်အရပ်၌ ထာဝရ ဘုရားသည် မီးထဲ
ကသင်တို့အားမိန့်မြွက်တော်မူသောအခါ၊ မည်
သည့်အဆင်း သဏ္ဍာန် ကိုမျှ မမြင်ရသည် ဖြစ်
၁၆ ၍၊- နောက်တဖန်သင်တို့သည် လူယောကျ်ား
၁၇ လူ မိန်းမ သဏ္ဍာန်၊- မြေကြီး ပေါ်မှာ ရှိသော တိ
ရစ္ဆာန်သဏ္ဍာန်၊ မိုဃ်းကောင်းကင်၌ ပျံတတ်
၁၈ သော ငှက် သဏ္ဍာန်၊- မြေပေါ်မှာ တွားတတ်
သော တိရစ္ဆာန် သဏ္ဍာန်၊ မြေနိမ့်ရာ ရေ၌နေ
သော ငါး သဏ္ဍာန် ရှိသော ရုပ်တု ကို၊ သင်တို့
သည်ဖောက်ပြန်၍၊ ကိုယ်အဖို့ မလုပ်ရမည်အ
၁၉ ကြောင်း၊-မိုဃ်းကောင်းကင်ကိုမျှော်၍၊နေ၊လ၊
ကြယ်များ တည်းဟူသော၊ မိုဃ်းကောင်းကင်
တန်ဆာ ရှိသမျှတို့ကို မြင်သောအခါ၊ သင်တို့၏
ဘုရားသခင်ထာဝရဘုရားသည်၊ မိုဃ်းကောင်း
ကင် အောက်၌ ရှိသမျှသောလူမျိုးတို့အားဝေ
ပေးကမ်းတော်မူသော၊ ထိုတန်ဆာတို့ကိုဝတ်ပြု
ကိုးကွယ် စေခြင်းငှါ၊ သူတပါးတို့သည် သွေး
ဆောင်၍ မရ နိုင်မည် အကြောင်း၊ ကိုယ်ကို
၂၀ ကိုယ် သတိပြုကြလော့။- သင်တို့သည်ယနေ့၌
ဖြစ်သကဲ့သို့၊ ထာဝရ ဘုရား အမွေ ခံတော်မူ
သော လူ မျိုးဖြစ်စေခြင်းငှါ၊ သင်တို့ကိုအဲဂုတ္တု

ပြည် သံမီးဖိုထဲက နှုတ်၍ ထုတ်ဆောင်တော်မူပြီ။
၂၁ ထိုမှတပါး၊ ထာဝရဘုရားသည် သင်တို့အ
တွက် ငါ့ကိုအမျက်တော်ထွက်၍၊ ငါသည်ယော်
ဒန်မြစ် တဘက်သို့ မကူးရမည် အကြောင်းနှင့်
သင်တို့၏ဘုရားသခင်ထာဝရဘုရားသည် သင်
တို့ အမွေခံစရာ အဖို့ ပေးတော်မူသော၊ ထိုပြည်
ကြတ်သို့ မဝင်စားရမည် အကြောင်း၊ ကျိန်ဆို
၂၂ တော်မူပြီ။- သို့ဖြစ်၍၊ ဤပြည်၌ ငါသေရမည်၊
ယော်ဒန်မြစ်ကိုမကူးရ၊ သင်တို့သည်ကူး၍၊ ထို
ကောင်းမွန်သောပြည်ကိုဝင်စားကြလိမ့်မည်။-
၂၃ သင်တို့၏ဘုရားသခင် ထာဝရဘုရားသည်သင်
တို့၌ ထားတော်မူသော ပဋိညာဉ်တရားကို မေ့
လျော့၍၊ သင်တို့ ဘုရားသခင် ထာဝရ ဘုရား
မြစ်တားတော် မူသော အရာ တို့၏ သဏ္ဌာန်ရှိ
သောရုပ်တုကိုမလုပ်မည်အကြောင်း၊ ကိုယ်ကို
၂၄ ကိုယ်သတိပြုကြလော့။- အကြောင်းမူကား၊
သင်တို့၏ ဘုရားသခင် ထာဝရဘုရား သည်
လောင်သောမီး၊ အပြစ်မှိုသည်ထုထိုလွှယ်သော
ဘုရားဖြစ်တော်မူ၏။
၂၅ သင်တို့သည် သားမြေးတို့ကို ဖွားမြင်၍၊ ထို
ပြည်၌ ကြာမြင့်စွာနေပြီးမှ၊ ထစန် ဖောက်ပြန်
အမြင့်၊ သဏ္ဌာန်တစုံတခုရှိသောရုပ်တုကိုလုပ်
၍၊သင်တို့၏ဘုရားသခင်ထာဝရဘုရား အမျက်
တော်ကိုနှိုးဆော်ခြင်းငှါ ရှေ့တော်၌ဒုစရိုက်ကို
၂၆ ပြုလျှင်၊-ကောင်းကင်မြေကြီးကိုသင်တို့တဘက်
၌သက်သေ ငါတိုင်တည် သည်ကား၊ သင်တို့သည်
ယော်ဒန်မြစ်ကိုကူး၍ ဝင်စားသော ပြည်၌၊ မ
ကြာမမြင့်မှီ ဆက်ဆက် ပျောက်ပျက် ရကြလိမ့်
မည်။ ထိုပြည်၌တာရှည်စွာအသက်မရှင်ရ၊ ရှင်း
၂၇ ရှင်းပျက်စီးခြင်းသို့ရောက်ရကြလိမ့်မည်။-ထာ
ဝရ ဘုရား သည် ထည်း၊ သင် တို့ကို တပါး အ
မျိုးသား တို့ တွင် အရပ် ရပ် ကွဲ ပြား စေ ၍၊ နှင်
ထုတ်တော်မူသောသာသနာပလူတို့တွင်သင်တို့
၂၈ သည်နည်းနည်းကျန်ကြွင်းရကြလိမ့်မည်။-ထို
အရပ်တို့၌၊လူလက်ဖြင့်လုပ်၍မမြင်နိုင်၊မကြား
နိုင်၊ မစားနိုင်၊မနမ်းနိုင်သောသစ်သားဘုရား၊
ကျောက်ဘုရားတို့ကို သင်တို့သည်ဝတ်ပြုရကြ
၂၉ လိမ့်မည်။- သို့သော်လည်း၊ ထိုအရပ်တို့၌သင်
တို့၏ဘုရားသခင်ထာဝရဘုရားကို တဖန်ရှာလို
သောအခါ၊ စိတ်နှလုံးအကြွင်းမဲ့ရှာလျှင်၊ တွေ့
၃၀ ရကြလိမ့်မည်။- သင်တို့သည် နောင်ကာလ၌
[illegible]အမှုအလုံးစုံတို့နှင့်တွေ့

ကြုံသောအခါ၊ သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရား ထံတော် သို့ ပြန်လာ၍၊ စကားတော်ကို
၃၁ နားထောင်လျှင်၊-သင်တို့၏ဘုရားသခင်ထာဝရ
ဘုရား သည် သနားတတ်သောဘုရားဖြစ်တော်
မူသောကြောင့်၊ သင်တို့ကိုစွန့်ပြစ်ဖျက်ဆီးတော်
မမူ၊ သင်တို့ ဘိုးဘေးတို့အား ကျိန်ဆို တော်မူ
သောပဋိညာဉ်တရားကို မေ့လျော့တော်မမူ။
၃၂ ဘုရားသခင် သည် မြေကြီးပေါ်မှာ လူကို ဖန်
ဆင်းတော်မူသောနေ့မှစ၍၊သင်တို့မဖြစ်မှီ၊လွန်
လေပြီးသော ကာလ ပတ်လုံး။ မိုဃ်း ကောင်း
ကင်တဘက်မှ တဘက်တိုင် အောင်၊ မေးမြန်းကြ
လော့၊ ဤမျှလောက်ကြီးသော အမှုဖြစ် ဘူးသ
လော၊ ဤကဲ့သို့သောအမှု၏ သိတင်းကို ကြား
၃၃ ဘူးသလော။- ဘုရား သခင်သည် မီးထဲက မိန့်
မြွက်တော်မူသံကို သင်တို့သည် ကြားသကဲ့သို့၊
အခြားသောလူမျိုးသည်ကြား၍၊ အသက်ရှင်း
၃၄ သာရဘူးသလော။- သင်တို့၏ဘုရားသခင်ထာ
ဝရဘုရားသည်၊ အဲဂုတ္တုပြည်မှာ သင်တို့မျက်
မှောက်၌ပြုတော်မူသကဲ့သို့၊ စုံစမ်းခြင်း၊ နိမိတ်
လက္ခဏာနှင့် အံ့ဖွယ် သော အမှုတို့ကို ပြခြင်း၊
စစ် မှုကို ရောက် စေခြင်း၊ အား ကြီးသော လက်
ရုံးတော်ကိုဆန့်ခြင်း၊ကြောက်မက်ဖွယ်သောရူ
ပါရုံတို့ကို ပြခြင်းအားဖြင့်၊ အခြားတပါးသော
ဘုရားသည် သွား၍၊ လူတမျိုးထဲက တမျိုးကို
၃၅ မိမိအဖို့ နှုတ် ယူ ဘူး သလော။- ထာဝရဘုရား
သည် ဘုရားသခင်ဖြစ်တော် မူကြောင်း ကို၎င်း၊
ကိုယ် တော်မှ တပါး၊ အခြား သော ဘုရား မရှိ
ကြောင်း ကို၎င်း၊ သင် တို့ သိ စေ ခြင်းငှါ၊ ထိုအ
၃၆ ခြင်းအရာတို့ကို သင်တို့အားပြတော်မူပြီ။- သင်
တို့ကို သွန် သင် ၍၊ ကောင်းကင် ထဲ က စကား
တော်သံကို ကြားစေတော်မူပြီ၊ မြေကြီးပေါ်မှာ
ကြီးစွာသောမီးတော်ကိုလည်းပြတော်မူ၍၊သင်
တို့သည်မီးထဲကစကားတော်ကိုကြားရကြပြီ။-
၃၇ သင်တို့ဘိုးဘေးများကိုချစ်တော်မူသောကြောင့်၊
သူတို့အမျိုးအနွယ်ကိုရွေးကောက်တော်မူပြီ။-
၃၈ သင်တို့ထက်အားကြီး၍ များပြားသော လူမျိုး
တို့ကိုသင်တို့ရှေ့မှနှင်ထုတ်တော်မူ၍၊ယနေ့ပင်
ဖြစ်သကဲ့သို့ သူတို့မြေထဲသို့သင်တို့ကို သွင်း၍၊
အမွေခံစေခြင်းငှါ၊ မဟာတန်ခိုးတော်အားဖြင့်
အဲဂုတ္တုပြည်မှ ရှေ့တော်၌ နှုတ်ဆောင်တော်မူ
၃၉ ပြီ။- သို့ဖြစ်၍၊ ထာဝရ ဘုရား သည် အထက်
ကောင်းကင်ပေါ်၊ အောက်အရပ်မြေ[illegible]ပေါ်မှာ

ဘုရားသခင်ဖြစ်တော်မူကြောင်းကိုငဲ၊ အခြား
တပါးသော ဘုရား မရှိကြောင်းကိုငဲ သင်နေ့သိ
၄၀ မှတ်၍၊ နှလုံး၌သွင်းမိကြလော့။ သင်တို့နှင့်
တကွ သားမြေးတို့သည် ချမ်းသာရခြင်းငှါငဲ၊
သင်တို့၏ဘုရားသခင် ထာဝရဘုရား ပေးတော်မူ
သောပြည်၌အသက်တာရှည်စေခြင်းငှါငဲ၊ယ
နေ့ငါမှာထားသော ပညတ် တရားတော် တို့ကို
စောင့်ရှောက် ရကြမည်ဟု၊ မောရှေသည်ဟော
ပြောလေ၏။
၄၁ ထိုအခါ ဖိမ်နီးချင်းကို အငြိုးမထားသဲ၊ အ
၄၂ မှတ်တမဲ့သတ်မိသောသူသည်ပြေး၍၊ အသက်
ချမ်းသာရသော မြို့သုံးမြို့တို့ကို ယော်ဒန်မြစ်အ
ရှေ့၊ နေထွက်ရာ ဘက် ၌ မောရှေသည် ခွဲထား
၄၃ လေ၏။- ထိုမြို့တို့၏ အမည်ကား၊ ရုဗင် အမျိုး
သားနေရာတောလွင်ပြင်၌ဗေဇာမြို့၊ ဂဒ်အမျိုး
သားနေ ရာ ဂိလဒ်ပြည်၌ ရာမုတ်မြို့၊ မနာရှေ အ
မျိုးသားနေရာဗာရှန်ပြည်၌ဂေါလန်မြို့တည်း။
၄၄ ဤနေ့ကား၊ မောရှေသည် ဣသရေလအမျိုး
၄၅ သားတို့၌ ထားသော တရား။- သူတို့သည် အဲ
ဂုတ္တုပြည် မှ ထွက်သောနောက်၊ ဟေရှဘုန်မြို့
နေ အာမောရိရှင်ဘုရင် ရှိဟုန်၏ နိုင်ငံအတွင်း၊
ယော်ဒန်မြစ်အရှေ့ဘက်၊ ဗက်ပေဟုရမြို့တဖက်
၌ ရှိသော ချိုင့်တွင်၊ မော ရှေ ဟော ပြော သော
သက် သေ စကား၊ စီ ရင် ထုံး ဖွဲ့ သော စကား
၄၆ တည်း။- မောရှေနှင့် ဣသရေလ အမျိုးသားတို့
သည်အဲဂုတ္တုပြည်မှထွက်ကြသောနောက်၊ထို
၄၇ ရှင်ဘုရင်နှင့်- ဗာရှန်ရှင်ဘုရင်ဩဃတည်းဟူ
သော၊ ယော်ဒန်မြစ်အရှေ့၊ နေထွက်ရာဘက်၌
နေသောအာမောရိရှင်ဘုရင်နှစ်ပါးကိုလုပ်ကြ
၄၈ ၍၊သူတို့ပြည်ကို-အာနုန်မြစ်နားမှာ ရှိသောအာ
ရော်မြို့မှစ၍၊ ဟေရမုန်တောင်တည်း ဟူသော
၄၉ စီဂုန်တောင်တိုင်အောင်ငဲ၊- ယော်ဒန်မြစ်အ
ရှေ့ဘက်၊ လွင်ပြင် နှင့်တကွ လွင် ပြင် နှင့် ဆိုင်
သောပင်လယ်၊ အာရုတ် ပိသဂါမြို့ တိုင်အောင်
ငဲသိမ်းယူကြ၏။

## ၅

၁ တဖန်မောရှေသည်ဣသရေလအမျိုးသားအ
ပေါင်းတို့ကိုခေါ်၍၊ ဣသရေလ အမျိုးသား
တို့၊ ယနေ့သင်တို့အား ငါဟောပြောသော စီရင်
ထုံးဖွဲ့ချက်တို့ကို သင် တို့သည် သွန်သင်၍ ကျင့်
ခြင်းငှါသတိပြုမည် အကြောင်း နားထောင်ကြ
၂ လော့။- ငါတို့ဘုရားသခင် ထာဝရဘုရားသည်
ဟောရပ်တောင်၌ ငါတို့နှင့်ပဋိညာဉ်ပြုတော်မူ
၃ ၏။-ထိုပဋိညာဉ်တရားကို ထာဝရဘုရားသည်
ငါတို့ ဘိုးဘေး များ နှင့် ထား ပြုတော် မူသည်မ
ဟုတ်၊ ယနေ့ပင်အသက်ရှင်၍၊ဤအရပ်၌ရှိသ
၄ မျှသောငါတို့နှင့်ပြုတော်မူ၏။- ထာဝရဘုရား
သည်တောင်ပေါ်မှာမီးထဲက၊ သင်တို့နှင့် မျက်
၅ နှာချင်းဆိုင်၍မိန့်မြွက်တော်မူ၏။- ထိုအခါသင်
တို့သည် မီးကိုကြောက်၍၊ တောင် ပေါ်သို့ မ
တက်ဝံ့သောကြောင့်၊ ငါသည် ထာဝရဘုရား၏
အမိန့်တော်ကို ထင်ရှားခြင်းငှါ၊ ထာဝရ ဘုရား
၆ နှင့်သင်တို့စပ်ကြားမှာရပ်နေ၏။-မိန့်မြွက်တော်
မူသောစကားဟူမူကား၊ ငါသည်ကျွန်ခံ
နေရာ အဲဂုတ္တုပြည်မှ ကယ်နှုတ်ဆောင်ယူခဲ့ပြီး
သော၊သင်၏ဘုရားသခင်ထာဝရဘုရားဖြစ်၏။-
၇ ငါမှတပါး၊ အခြားသောဘုရား ကို မကိုးကွယ်
၈ နှင့်။- အထက်မိုဃ်းကောင်းကင်၌၎င်း၊ အောက်
အရပ်မြေကြီးပေါ်၌၎င်း၊မြေကြီးအောက်ရေထဲ
၌၎င်းရှိသော အရာနှင့် ပုံသဏ္ဌာန်တူရုပ်တု
၉ ဆင်းတုကိုကိုယ်အဖို့မလုပ်နှင့်။-ဦးမချ၊ဝတ်မ
ပြုနှင့်။ အကြောင်းမူကား၊ သင်၏ဘုရားသခင်၊
ငါထာဝရ ဘုရားသည်သင် ၌ အပြစ်ရှိသည်ဟု
ထုံလွှယ်သောဘုရား၊ ငါ့ကိုမုန်းသောသူတို့၏အ
မျိုး၊အစ်ဆက်၊တတိယအဆက်၊စတုတ္ထအ
ဆက်တိုင်အောင် အဘတို့၏ အပြစ်ကို သားတို့၌
၁၀ ဆပ်ပေးစီရင်သောဘုရား။- ငါ့ကိုချစ်၍ပညတ်
တို့ကိုကျင့်သော သူတို့၏အမျိုး အစည် အဆက်
အထောင်အသောင်းတိုင်အောင်၊ကရုဏာကိုပြု
၁၁ သောဘုရားဖြစ်၏။- သင်၏ဘုရားသခင်ထာဝရ
ဘုရား၏နာမတော်ကိုမုသာနှင့်ဆိုင်၍မမြွက်မ
ဆိုနှင့်၊ အကြောင်းမူကား၊ နာမတော်ကိုမုသာ
နှင့်ဆိုင် ၍ မြွက်ဆိုသော သူကို အပြစ် မရှိဟု၊
၁၂ ထာဝရဘုရား မှတ်တော်မမူ။-သင်၏ ဘုရားသ
ခင်ထာဝရဘုရား မှာထားတော်မူသည့်အတိုင်း၊
ဥပုသ်နေ့ကိုသန့်ရှင်းစေခြင်းငှါ၊ ထိုနေ့ရက်ကို
၁၃ စောင့်လော့။- ခြောက်ရက်ပတ်လုံးအလုပ်မျိုး
၁၄ ကိုကြိုး စား၍ လုပ် ဆောင် လော့။- သတ္တမ နေ့
ရက်သည်သင်၏ဘုရား သခင် ထာဝရဘုရား၏
ဥပုသ်နေ့ဖြစ်၏၊ ထိုနေ့၌သင်မှစ၍ သင်၏သား
သမီး၊ ကျွန်ယောကျ်ားမိန်းမ၊နွားမြည်းအစရှိသောသင်
၏တိရိစ္ဆာန်၊သင်၏တံခါးအတွင်း၌နေသောဧည့်
သည်အာဂန္တုသည်အလုပ်မလုပ်ရ။ သင်ကဲ့သို့
ငြိမ်ဝပ်စွာနေသကဲ့သို့၊ သင်၏ကျွန်ယောကျ်ား

၁၅ မိမိကဲ့သို့ငြိမ်ဝပ်စွာနေရကြမည်။-သင်သည်
အဲဂုတ္တုပြည်၌ ကျွန်ခံကြောင်းကို၎င်း၊ သင်၏
ဘုရားသခင်ထာဝရဘုရားသည်အားကြီးသော
လက်ရုံးတော်ကိုဆန့်၍၊ ထိုပြည်မှသင့်ကိုနှုတ်
ဆောင်တော်မူကြောင်းကို၎င်းအောက်မေ့လော့။
ထိုအကြောင်းကြောင့်၊ သင်သည်ဥပုသ်နေ့ကို
စောင့်ရမည်ဟု၊ သင်၏ဘုရားသခင် ထာဝရ
ဘုရားမှာထားတော်မူ၏။
၁၆ သင်၏ဘုရားသခင် ထာဝရဘုရား ပေးသနား
တော်မူသောပြည်၌သင်သည် အသက်တာရှည်
၍ ကောင်းစားရမည် အကြောင်း၊ သင်၏ဘုရား
သခင် ထာဝရ ဘုရား မှာ ထား တော်မူ သည့် အ
၁၇ တိုင်း၊ သင်၏မိဘကိုရိုသေစွာပြုလော့။- လူအ
၁၈ သက်ကို မသတ်နှင့်။- သူမယားကို မပြစ်မှား
၁၉၊၂၀ နှင့်။- သူ့ဥစ္စာကိုမခိုးနှင့်။-ကိုယ်နှင့်စပ်ဆိုင်
သော သူတဘက် ၌ မမှန်သော သက်သေ ကို မခံ
၂၁ နှင့်။-ကိုယ်နှင့်စပ်ဆိုင်သောသူ၏မယားကိုတပ်
မက်သော စိတ်မရှိစေနှင့်။ ကိုယ်နှင့် စပ် ဆိုင်
သော သူ၏ အိမ်၊ လယ်ယာ၊ ကျွန် ယောကျ်ား
မိန်းမ၊ နွားမြည်းမှစ၍၊ ကိုယ်နှင့်စပ်ဆိုင်သော သူ၏
ဥစ္စာတစုံတခုကိုမျှ တပ်မက်လိုချင်သော စိတ်မ
ရှိစေနှင့် ဟုမိန့်တော်မူ၏။
၂၂ ထိုစကားတော်တို့ကိုထာဝရဘုရားသည်တောင်
ပေါ်မှာ မီး၊ မိုးတိမ်၊ ထူထပ်သောမှောင်မိုက်
ထဲကကြီးစွာသောအသံနှင့် သင်တို့စည်းဝေးရာ
ပရိသတ် အပေါင်းတို့အား မိန့်မြွက်တော်မူ၏။
ထပ်၍ မိန့် မြွက် တော် မမူ။ ထိုစကား တော်ကို
လည်း၊ ကျောက်ပြား နှစ်ပြားပေါ်မှာရေး၍ငါ့၌
၂၃ အပ်တော်မူ၏။- သင်တို့သည်မှောင်မိုက်ထဲက
စကားသံကိုကြား၍၊ တောင်ထိပ်သည်မီးလောင်
လျက်ရှိသောအခါ၊ သင်တို့အမျိုးအနွယ် တို့၌
မင်းဖြစ်သောသူ၊ အသက်ကြီးသူတို့သည် ငါ့ထံ
၂၄ သို့ချဉ်းကပ်၍၊-အကျွန်ုပ်တို့ဘုရားသခင်ထာဝ
ရဘုရားသည်ဘုန်းတန်ခိုးအာနုဘော်တော်ကို
အကျွန်ုပ်တို့အား ပြတော်မူပြီ။ မီးထဲကစကား
တော်အသံကို အကျွန်ုပ် တို့သည် ကြားရပါပြီ။
ဘုရားသခင်သည်လူနှင့်နှုတ်ဆက်တော်မူသော်
လည်း၊ လူသည် အသက်ရှင်သေးသည်ကို၊ ယ
၂၅ နေ့၌အကျွန်ုပ်တို့သည် သိမြင်ရပါပြီ။-အကျွန်ုပ်
တို့သည် အဘယ်ကြောင့် သေရ သော ရ ပါ မည်
နည်း။ ဤကြီးစွာသောမီးဖြင့်အကျွန်ုပ်တို့သည်
ဆုံးရှုံး ပါလိမ့်မည်။ အကျွန်ုပ်တို့ ဘုရား သခင်
ထာဝရဘုရား မိန့်တော် မူသော အသံ တော်ကို
၂၆ တဖန်ကြားရလျှင်၊ သေရပါလိမ့်မည်။-အသက်
ရှင်တော်မူသောဘုရားသခင်သည် မီးထဲကမိန့်
မြွက်တော် မူသော အသံ တော်ကို အကျွန်ုပ်တို့
ကြားရသကဲ့သို့၊ အဘယ်လူသတ္တဝါသည်ကြား
၂၇ ၍ အသက် ရှင် သနည်း။-ကိုယ်တော်သည် အ
နီးအပါးသို့ချဉ်းသွား၍၊ အကျွန်ုပ်တို့ဘုရားသ
ခင်ထာဝရဘုရားမိန့်တော်မူသမျှကို နားထောင်
တော်မူပါ။ အကျွန်ုပ်တို့ ဘုရားသခင် ထာဝရ
ဘုရားသည်ကိုယ်တော်အားမိန့်တော်မူသမျှကို
ဆင့်ဆိုတော်မူပါ။ အကျွန်ုပ်တို့သည်နားထောင်
၂၈ ၍ပြုပါမည်ဟုလျှောက်ဆိုကြ၏။-ထိုသို့သင်တို့
သည် ငါ့အားလျှောက်သော စကားကို ထာဝရ
ဘုရားကြားတော်မူ၏၊ ထာဝရဘုရားကလည်း၊
ဤလူမျိုးသည်သင့်အား လျှောက်သော စကား
သံကို ငါကြားရပြီ။ လျှောက် လေ သမျှသော
၂၉ စကားသည်လျောက်ပတ်ပေ၏။-သူတို့နှင့်သား
မြေးအစဉ်အဆက်တို့သည် ချမ်းသာရမည်အ
ကြောင်း၊ ငါ့ကိုကြောက်ရွံ့၍၊ ငါ့ပညတ်သမျှတို့
ကိုအစဉ်စောင့်ရှောက်ချင်သောစိတ်နှင့်ပြည့်စုံ
၃၀ ကြပါစေသော်။- တဲများသို့ ပြန်သွားကြ လော့
၃၁ ဟု၊ သူတို့အားပြောလော့။- သင်မူကား ဤ
အရပ်၌ငါ့အနားမှာရပ်နေလော့၊ သူတို့အား ငါ
အပိုင်ပေးသောပြည်၌သူတို့ကျင့်ဖို့ရာသင်ထံ၌
သူတို့အား သွန်သင်ရသော စီရင် ထုံး ဖွဲ့ ချက်၊
ပညတ်တရားအလုံးစုံတို့ကိုငါမြွက်ဆိုမည်ဟု၊
၃၂ ငါ့အားမိန့်တော်မူ၏။-သို့ဖြစ်၍၊သင်တို့၏ဘုရား
သခင်ထာဝရဘုရား မှာ ထား တော် မူ သည့် အ
တိုင်း၊ သင်တို့သည် ကျင့်ဆောင်၍ စောင့်နေရ
ကြမည်။ လက်ျာဘက်၊ လက်ဝဲဘက်သို့ မလွှဲမ
၃၃ ရှောင်ရကြ။-သင်တို့ဝင်စားလတ္တံ့သောပြည်၌
သင်တို့သည် သေဘေး လွတ်လျက် ချမ်းသာရ
၍၊ အသက်တာရှည်မည်အကြောင်း၊ သင်တို့၏
ဘုရား သခင် ထာဝရ ဘုရား မှာ ထား တော် မူ
သော လမ်း အပေါင်း တို့ ၌ လျှောက် သွား ရကြ
မည်။

၆

၁ သင်တို့နှင့်သားမြေးတို့သည်သင်တို့၏ဘုရား
၂ သခင် ထာဝရ ဘုရားကို ကြောက်ရွံ့၍၊ ငါပေး
ထားသော ပညတ်တရား တော်မှုသမျှ တို့ကိုတ
သက် လုံး စောင့် ရှောက် မည် အ ကြောင်း၊ နှင့်
သင်တို့၏ အသက်တာရှည်စေမည် အကြောင်း၊

သင်တို့သွား၍ ဝင်စားသော နို့နှင့်ပျားရည် စီးသောပြည်၌ ကျွန်ုပ်
ရာ သင်တို့အဘဘိုးဘေးတို့၏ ဘုရားသခင် ထာဝရ ဘုရားမှာ ထားတော်မူ
သော ပညတ်တော်၊ စီရင်ထုံးဖွဲ့ချက်၊ ပညတ်တရားဟူမူကား၊-
၄ အိုဣသရေလအမျိုး၊ ထိုစကားတို့၏ ဘုရားသခင်
ထာဝရ ဘုရား ဝတ် တော်ရှိသည့် အတိုင်း၊ သင်
သည် နို့နှင့်ပျားရည် စီးသောပြည်၌ ပွားများသောရ၍
အထွန်းပွား များ စည်း အကြောင်း၊ နားထောင်
၄ လော့၊ ထိုထိုနှင့်ကျင့်စောင့်လော့၊- အိုဣသရေ
လအမျိုး၊ နားထောင်လော့၊ ငါတို့၏ဘုရားသခင်
ထာဝရဘုရား သည် တဆူတည်းသော ထာဝရ
၅ ဘုရားဖြစ်တော်မူ၏၊ သင်၏ဘုရားသခင်ထာဝ
ရဘုရားကို စိတ်နှလုံးအကြွင်းမဲ့၊ အစွမ်းသတ္တိ
၆ ရှိသမျှ နှင့် ချစ်လော့၊ ယနေ့ ငါမှာထားသော
၇ စကားကို နှလုံးသွင်းရမည်၊- ထိုစကားကိုသင်
၏သား တို့၊ ထိုသား ကြိုးစား၍ သွန်သင် ရမည်၊
အိမ်၌ ထိုင်လျက်နေသည်ဖြစ်စေ၊ ခရီး၌ သွား
သည်ဖြစ်စေ၊ အိပ်လျှင်၊ ထလျှင်ရှိသည်ဖြစ်
၈ စေ၊ ထို စကားကိုပြော ရ မည်၊- ထိုစကား ကို
သည်း သင်၏လက်၌လက္ခဏာသက်သေဖို့ရာ
ရစ်၊ သင်၏မျက်မှောက်မှာ သင်းကျစ်ကဲ့သို့ရင်၊
၉ ရှိသည်းရ မည်၊- အိမ်တံခါး၊ မြို့တံခါးတိုင်၌
လည်းရေးထားရမည်။
၁၀ သင်မတည် သော မြို့ကြီး မြို့ကောင်းတို့ကို၎င်း၊
၁၁ သင်မဖြည့်ထားကောင်းသော အရာ နှင့် ပြည့်သော
အိမ်တို့ကို၎င်း၊ သင်မတူးသောရေတွင်းတို့ကို၎င်း၊
သင်မစိုက် မပျိုးသော စပျစ် ဥယျာဉ်နှင့် သံလွင်
ပင်တို့ကို၎င်း သင့် အား ပေးခြင်းငှါ၊ သင်၏အဘ
အာဗြဟံ၊ ဣဇာက်၊ ယာကုပ်တို့အား ကျိန်ဆို
တော်မူသောပြည်သို့၊ သင်၏ဘုရားသခင် ထာဝ
ရဘုရား သည် သင့် ကို ဆောင်သွင်းတော် မူ၍၊
၁၂ သင်သည်ဝစွာစားလျက်နေရသောအခါ၊-ကျွန်
ခံနေရာ အဲဂုတ္တုပြည်မှ သင့်ကိုကယ်နှုတ်ဆောင်
ထုတ်ခဲ့သော ထာဝရဘုရား ကို မမေ့လျော့မည်အ
၁၃ ကြောင်း၊ ကိုယ်ကိုကိုယ် သတိပြုလော့၊- သင်၏
ဘုရားသခင် ထာဝရဘုရားကိုကြောက်ရွံ့ရမည်၊
ထိုဘုရားသခင်ကိုသာ ဝတ်ပြုရမည်၊ နာမတော်
၁၄ အားဖြင့် သည်း၊ ကျိန်ဆိုခြင်းကို ပြုရမည်၊- အ
ခြားတပါးသောဘုရား၊ သင့်ပတ်ဝန်း၌နေသော
၁၅ လူမျိုးတို့ ၏ ဘုရားကိုမဆည်းမကပ်ရ၊- သင်၏
ဘုရား သခင် ထာဝရ ဘုရား သည် သင် တို့၌ အ
ပြစ်မှိသည်ကိုလုံလွယ်သောဘုရား ဖြစ်တော်မူ
၏၊ သင်၏ဘုရားသခင်ထာဝရဘုရားသည်သင့်
ကို အမျက်ထွက်၍၊ မြေကြီးပြင်မှာ သုတ်သင်
၁၆ ပယ်ရှင်းတော်မူမည်ဟု မိုးမိမ်စရာရှိ၏၊- သင်
သည် မဿာအရပ်၌ပြုသကဲ့သို့၊ သင်၏ဘုရား
၁၇ သခင်ထာဝရဘုရားကိုအစုံအစမ်းမပြုရ၊-သင်
၏ဘုရားသခင် ထာဝရဘုရားထားတော်မူသော
သက်သေခံချက်၊ စီရင်ချက်၊ ပညတ်တရားတို့
၁၈ ကိုကြိုးစား၍ စောင့်ရှောက်ရမည်၊- သင်သည်
၁၉ ချမ်းသာရခြင်းငှါ၎င်း၊-ထာဝရဘုရားဂတိတော်
ရှိသည်အတိုင်း ရန်သူအပေါင်းတို့ကို သင့်ရှေ့မှ
နှင်ထုတ်သဖြင့်၊ သင်၏ ဘိုးဘေးတို့အား ကျိန်
ဆိုတော်မူသော ပြည်မြတ်ကိုဝင်စား၍ နေခြင်း
ငှါ၎င်း၊ ထာဝရ ဘုရား ရှေ့တော်၌ ဖြောင့် မတ်
လျောက်ပတ်သောအမှုတို့ကိုပြုရမည်။
၂၀ နောင်ကာလ၌သင်၏သားက၊ ငါတို့ဘုရားသ
ခင် ထာဝရဘုရား ထား တော် မူ သော ဤသက်
သေခံချက်၊ စီရင် ထုံးဖွဲ့ချက်တို့သည် အဘယ်
၂၁ သို့ဆိုလိုသနည်းဟုမေးမြန်းလျှင်၊- သင်က၊ငါ
တို့သည် အဲဂုတ္တုပြည်၌ ဖာရောဘုရင်၏ ကျွန်
ဖြစ်၍ နေစဉ်အခါ၊ ထာဝရဘုရားသည် အား
ကြီးသောလက်တော်နှင့် ငါတို့ကိုအဲဂုတ္တုပြည်
၂၂ မှနှုတ်ဆောင်တော်မူ၏၊- ထာဝရဘုရားသည်
လည်း၊ ကြီးမားခက်ထန်သော နိမိတ်လက္ခဏာ
အံ့ဩဖွယ်အရာတို့ကိုအဲဂုတ္တုပြည်အပေါ်မှာ၎င်း၊
ဖာရောဘုရင်နှင့် နန်းတော်သားတို့ အပေါ်မှာ
၂၃ ၎င်း၊ ငါတို့မျက်မှောက်၌ ပြတော်မူပြီးလျှင်၊-ငါ
တို့ဘိုးဘေးတို့အား ကျိန်ဆိုတော်မူသော ပြည်
သို့သွင်း၍နေရာချခြင်းအလိုငှါ၊ ထိုပြည်မှ နှုတ်
၂၄ ဆောင် တော်မူ၏၊- ထာဝရဘုရား သည် ယနေ့
ထိုင်စေခြင်းကျေးဇူးပြုတော်မူသကဲ့သို့၊ငါတို့အ
သက်ကို စောင့်တော်မူမည်အကြောင်း၊ ငါတို့
သည် ကိုယ်အကျိုးကိုသောက်၍၊ ငါတို့ဘုရား
သခင် ထာဝရဘုရား ကို ကြောက်ရွံ့လျက်၊ ဤ
ပညတ် အလုံးစုံတို့ကို ကျင့်စေခြင်းငှါ မှာထား
၂၅ တော်မူ၏၊-သို့ဖြစ်၍၊ငါတို့ဘုရားသခင်ထာဝရ
ဘုရား မှာထားတော်မူသည်အတိုင်း၊ ဤပညတ်
အလုံးစုံတို့ကိုရှေ့တော်၌ ကျင့်စောင့်ခြင်းငှါ သ
တိပြုလျှင်၊ ဖြောင့်မတ်ရာ သို့ ရောက်ရကြလိမ့်
မည်ဟုပြန်ပြောရမည်။

၇

၁ သင်၏ဘုရားသခင်ထာဝရဘုရားသည် သင်
သွား၍ ဝင် စား ထတ့် သော ပြည် သို့ သင့် ကို

ဟောင်းသွင်းတော်မူ၍၊ ဟိတ္တိလူ၊ ဂိရဂါရှိလူ၊ အာ
မောရိလူ၊ ခါနာနိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေဗု
သိလူတည်း။ သင့်ထက်ကြီး၍ များ
ပြားသော လူမျိုးခုနစ်မျိုးတို့ကို သင့်ရှေ့က နှင်
၂ ထုတ်၍၊– ထိုနိုင်ငံတို့၌ အပ်တော်မူသော
အခါ၊ သူတို့ကိုလုပ်ကြံ၍ အကုန်အစင်ဖျက်ဆီး
ပယ်ရှင်းရမည်၊ သူတို့နှင့်မိဿဟာယဖွဲ့ရ၊ ကယ
ရုဏာကိုမပြုရ။
၃ သူတို့နှင့် စုံဖက်ခြင်းကိုမပြုရ။ သင်၏သမီးကို
သူ၏သားနှင့်ပေး၍၊ သင်၏သားကိုသူ၏သမီးနှင့်ပေး၍
၄ ထိမ်းမြားလက်ထပ်ခြင်းကိုမပြုရ။– အကြောင်းမူ
ကား၊ သူတို့သည်သင်၏သားကိုငါ၌ မဆည်းကပ်
စေဘဲ၊ အခြားတပါးသော ဘုရားတို့ဝတ်
ပြုစေခြင်းငှါ လွှဲဆောင်ကြလိမ့်မည်။ ထိုအခါ
အမျက်ထွက်၍၊ သင်တို့ကို ချက်ချင်း ဖျက်ဆီး
၅ တော်မူလိမ့်မည်။– သို့ဖြစ်၍၊ သူတို့၌ အထယ်
သို့ပြုရမည်နည်းဟူမူကား၊ သူတို့ယဇ်ပလ္လင်
များကို ဖြိုဖျက်ရမည်။ ရုပ်တုများကို ဖြိုခွဲရမည်။
အာရှရပင်များကို ခုတ်လှဲရမည်။ ထုသော
၆ ရုပ်တုဆင်းတုများကိုမီးရှို့ရမည်။– အကြောင်း
မူကား၊ သင်သည် သင်၏ ဘုရားသခင် ထာဝရ
ဘုရားအဖို့သန့်ရှင်းသောအမျိုးဖြစ်၏။ မြေကြီး
ပေါ်မှာရှိသမျှသောလူမျိုးတို့ထက်သင်၏ဘုရားသ
ခင်ထာဝရဘုရား ပိုင်ထိုက်သော အမျိုးဖြစ်စေ
၇ ခြင်းငှါ၊ သင့်ကိုရွေးချယ်တော်မူပြီ။– သင်သည်
အခြားသော လူမျိုးတို့ထက် သာ၍ များသော
ကြောင့်၊ ထာဝရဘုရားသည်သင့်ကိုချစ်၍ရွေး
ချယ်တော်မူသည်မဟုတ်။ သင်သည် အခြား
၈ သောလူမျိုးတကာတို့ထက်သာ၍နည်း၏။– ထာ
ဝရဘုရားသည် သင့်ကို ချစ်သောကြောင့်၎င်း၊
သင်၏ဘိုးဘေးတို့အား ကျိန်ဆိုတော်မူသောအ
ကျိန်ကိုမဖျက်လိုသောကြောင့်၎င်း၊ ကျွန်ခံနေ
ရာ၊ အဲဂုတ္တုပြည်ကို အစိုးရသောဖာရောဘုရင်
သတ်မှ၊ အားကြီးသောလက်တော်နှင့် သင့်ကို
၉ ရွေးနှုတ်ဆောင်ထုတ်ခဲ့တော်မူပြီ။– သို့ဖြစ်၍၊ သင်
၏ ဘုရားသခင် ထာဝရဘုရားသည် မှန်သော
ဘုရား၊ သစ္စာစောင့်သောဘုရား၊ ကိုယ်တော်ကို
ချစ်၍ပညတ်တော်တို့ကို စောင့်ရှောက်သောသူ
တို့၏အမျိုး၊ အဆက်ဆက်အထောင်အသောင်း
တိုင်အောင် ပဋိညာဉ်ကိုတည်၍ ကရုဏာ
၁၀ ကိုပြုသောဘုရား၊– ကိုယ်တော်ကို မုန်းသောသူ
တို့ကို ဖျက်ဆီးခြင်းငှါ၊ သူတို့မျက်မှောက်၌ အ
ပြစ်ပေးသော ဘုရား ဖြစ်တော်မူကြောင်းကို သိ
မှတ်လော့။ ကိုယ်တော်ကို မုန်းသော သူတို့ကို
အားမနာဘဲ၊ သူတို့မျက်မှောက်၌ အပြစ်ပေး
၁၁ တော်မူမည်။– သို့ဖြစ်၍၊ ယနေ့ ငါထားသော
ရင်ထုံးဖွဲ့ချက်၊ ပညတ်တရားတို့ကိုကျင့်စောင့်သော
ငှါ စောင့်ရှောက်ရမည်။
၁၂ ထိုပညတ်တို့ကို သင်သည် ကျင့်ဆောင်စောင့်
သော်၎င်း နား ထောင်လျှင်၊ သင်၏ဘုရားသခင်
ထာဝရဘုရားသည် သင်၏ဘိုးဘေးတို့အားကျိန်
ဆိုတော်မူသောပဋိညာဉ်နှင့် ကရုဏာတော်ကို
၁၃ စောင့်တော်မူမည်။– သင့်ကိုချစ်၍ကောင်း
ကြီးပေး၍ များပြားစေတော်မူမည်။ သင့်အား
ပေးခြင်းငှါ၊ သင်၏ဘိုးဘေးတို့အား ကျိန် ဆို
တော်မူသောပြည်၌ သင်ဖွားမြင်သော သားတို့
ကို၎င်း၊ သင်၏မြေအသီး၊ ဂျုံ၊ စပျစ်ရည်၊
ဆီ၊ နွား၊ ဆိတ်၊ သိုး၊ ငွေကို၎င်း ကောင်း
၁၄ ကြီးပေးတော်မူမည်။– သင်သည် လူမျိုးတကာ
တို့ထက် သာ၍ ကောင်းကြီးခံရသောသူ ဖြစ်၍၊
သင့်၌မြူသော အထီးမဖြစ်ရာ၊ အမမဖြစ်ရာ၊ တိရစ္ဆာန်တွင်မြူသော အထီးအမ တကောင်မျှ မရှိ
၁၅ ရ။– ထာဝရဘုရားသည်လည်း၊ အနာရောဂါမှ
အမှုတို့ကိုသင့်ထံက ပယ်ရှား၍၊ သင်သိသော၊
အဲဂုတ္တုပြည်၏ အနာဆိုးကိုသင်၌ စွဲစေတော်မ
မူ၊ သင့်ကိုမုန်းသောသူအပေါင်းတို့၌ စွဲစေတော်
၁၆ မူမည်။– သင်၏ဘုရားသခင်ထာဝရဘုရားသည်
သင်၌ အပ်ပေးတော်မူသောလူမျိုးအပေါင်းကို
ဖျက်ဆီးရမည်။ သင်၏မျက်စိသည် သူတို့ကို မ
သနားရ။ သူတို့ဘုရားအား ဝတ်မပြုရ။ ဝတ်ပြု
လျှင်၊ ထိုမိ၍လဲစရာအကြောင်း ဖြစ်လိမ့်မည်။–
၁၇ ထိုလူမျိုးတို့သည်ငါထက်သာ၍ များ၏၊ ငါသည်
သူတို့ကို အဘယ်သို့နှင်ထုတ်နိုင်မည်နည်းဟု၊
၁၈ သင်သည် စိတ်ထဲမှာ အောင့်မေ့လျှင်၊– သူတို့
ကို မကြောက်ရ။ သင်၏ ဘုရားသခင် ထာဝရ
ဘုရားသည် ဖာရော ဘုရင်နှင့် အဲဂုတ္တုပြည်အ
၁၉ ပြည်လုံး၌ ပြုတော်မူသော အမှုကို၎င်း၊– ကိုယ်
တိုင်မြင်၍ ကြီးစွာသော စုံစမ်းခြင်းတို့ကို၎င်း၊
သင်၏ ဘုရားသခင်ထာဝရဘုရားသည် သင့်ကို
နှုတ်ဆောင် သော အခါ၊ ပြတော်မူသော နိမိတ်
လက္ခဏာ အံ့ဩဖွယ်သောအမှုတို့ကို၎င်း၊ အားကြီး
သော လက်ရုံးတော်ကို ဆန့်တော် မူခြင်းကို၎င်း
အောက်မေ့ရမည်။ ထိုနည်းတူ၊ သင်ကြောက်
တတ်သောလူမျိုးရှိသမျှတို့၌သင်၏ ဘုရားသခင်

၂၀ ထာဝရဘုရားရှိတော်မူမည်။-ထိုမှတပါး၊ ကျန်ကြွင်း၍ ပုန်းရှောင်လျှက်နေသော သူတို့သည်မပျက်စီးမှီတိုင်အောင်၊ သင်၏ဘုရားသခင်ထာဝရဘုရားသည်ပျားတုပ်များကိုသူတို့တွင်စေလွှတ်
၂၁ တော်မူမည်။- သူတို့ကြောင့် ထိတ်လန့်ခြင်းမရှိရ။ အကြောင်းမူကား၊ တန်ခိုးကြီး၍ ကြောက်မက်ဘွယ်သောသင်၏ဘုရားသခင်ထာဝရဘုရား
၂၂ သည်သင်တို့တွင်ရှိတော်မူ၏။-သင်၏ဘုရားသခင်ထာဝရ ဘုရားသည် ထိုလူမျိုးတို့ကို သင့်ထံက တရွေ့ရွေ့နှင်ထုတ်တော်မူလိမ့်မည်။ တောသားရဲတို့သည် သင့်တဖက်၌ များပြားမည်ကိုစိုးရိမ်၍၊ သူတို့ကိုချက်ချင်းမပယ်မရှားသင့်။-
၂၃ ထိုရာတွင်၊ သင်၏ဘုရားသခင် ထာဝရ ဘုရားသည် သူတို့ကို သင်၌အပ်၍၊ သူတို့မ ပျက် စီး မှီ တိုင်အောင်၊ကြီးစွာသောဖျက်ဆီးခြင်းကိုမိရစ်
၂၄ တော်မူမည်။-သူတို့ရှင်ဘုရင်များကိုသည်၊ သင့်လက်၌အပ်တော်မူသဖြင့်၊ သူတို့ဘွဲ့နာမကိုပင်ကောင်းကင်အောက်မှာပယ်ရှင်းရမည်။ သူတို့ကိုမဖျက်ဆီးမှီတိုင်အောင်၊သင့်ရှေ့မှာအထယ်
၂၅ ထူမျှ မရပ် မနေနိုင်ရာ။- သူတို့ ထု သော ရုပ်တုဆင်းတုဘုရားများကို မီးရှို့ရမည်။ ရုပ်တုဆင်းထုဖို့ပါသောရွှေငွေကိုမတပ်မက်ရ၊မသိမ်းမယူရ။ယူလျှင်၊ အပြစ်ရောက်မည်ဟု စိုးရိမ်စရာရှိ၏။ သင်၏ဘုရားသခင်ထာဝရဘုရားသည်စက်
၂၆ ဆုပ်ရွံရှာတော်မူ၏။- စက်ဆုပ် ရွံရှာဘွယ်သော အရာကို သင့်အိမ် ထဲသို့ မသွင်းရ။ သွင်း လျှင်၊ ထင်သည် ထိုအရာကဲ့သို့၊ ကျိန်အပ် သော အရာ ဖြစ်မည်ဟုစိုးရိမ်စရာရှိ၏။ထိုသို့သောအရာကို သင်သည်အကြွင်းမဲ့စက်ဆုပ် ရွံရှာရမည်။ကျိန်အပ်သောအရာပင်ဖြစ်ပေ၏။

၀

၁ သင် သည် အ သက် ရှင် ၍ များ ပြား မည် အကြောင်း၊ ထာဝရဘုရားသည်သင်၏ဘိုးဘေးတို့အား ကျိန် ဆို တော် မူ သော ပြည် သို့ သွား၍ဝင်စား မည် အကြောင်း၊ ယနေ့ ငါ မှာ ထား သော ပညတ်အလုံးစုံတို့ကို ကျင့်ဆောင်ဖို့သောငါ့စကားကို
၂ ထိန်းရမည်။-သင်၏ဘုရားသခင်ထာဝရဘုရားသည်သင့်ကိုနှိမ့်ချစုံစမ်း၍၊ ပညတ်တော်တို့ကို ကျင့်စောင့်သောစိတ်ရှိသည်၊ မရှိသည်ကိုသိမည် အကြောင်း၊ လွန် ခဲ့ ပြီး သော အနှစ် လေး ဆယ် ပတ်လုံး တော ၌ ပို့ ဆောင်တော် မူ သော လမ်း
၃ ခရီးတလျှောက်လုံးကိုအောက်မေ့ရမည်။-ထိုသို့ သင့်ကို နှိမ့်ချ၍၊ ဆာငတ် စေ၍ သင်မှစ၍ သင့်ဘိုးဘေး တို့သည် ကိုယ်တိုင် မသိ၊ သင်၏ ဘိုးဘေးတို့လည်း မသိဘူးသော မန္နနှင့်ကျွေးမွေးတော်မူသဖြင့်၊ လူသည် မုန့်အားဖြင့် သာ အသက် ကို မွေးရသည် မဟုတ်၊ ဘုရားသခင်မိန့်တော်မူသမျှအားဖြင့် အသက်မွေးရသည်ကို သိစေတော်
၄ မူ၏။- လွန်ခဲ့ပြီးသော အနှစ်လေးဆယ်ပတ်လုံး သင်ဝတ်သောအဝတ်မဟောင်းမနွမ်း၊သင့်ခြေ
၅ လည်းမဖူးမရောင်။-အဘသည်သားကိုဆုံးမသကဲ့သို့၊ သင်၏ဘုရားသခင် ထာဝရ ဘုရားသည် သင့်အားဆုံးမတော်မူသည်ကိုစိတ်ထဲမှာအောက်မေ့
၆ ရမည်။- သို့ဖြစ်၍၊ သင်၏ဘုရား သခင်ထာဝရ ဘုရား စီရင်တော်မူ သောလမ်းသို့လိုက်၍၊ ကိုယ်တော်ကိုကြောက်ရွံ့ သဖြင့် ပညတ်တော်
၇ တို့ကိုစောင့်ရှောက်ရမည်။-အကြောင်းမူကား၊ သင်၏ဘုရားသခင်ထာဝရဘုရားသည်ကောင်းသောပြည်၊ မြိုင်ထဲ၊ တောင်ထဲက ပေါက်သော မြစ်၊ချောင်း၊စမ်းရေတွင်း၊ ရေကန်များနှင့်ပြည့်
၈ စုံသော ပြည်၊-ဂျုံ၊ မုယော၊ စပျစ်ပင်၊ သင်္ဘောသဖန်းပင်၊ သံလွင်ပင်နှင့်ပြည့်စုံသောပြည်၊ သံလွင်
၉ ဆီ၊ ပျားရည်နှင့်ပြည့်စုံသောပြည်၊-ထမင်းမငတ်ဘဲ ဝစွာစားရသောပြည်၊ သံကျောက်နှင့်ပြည့်စုံ၍ တောင်ထဲကကြေးနီကိုတူးရသောပြည်သို့
၁၀ သင့်ကို ဆောင်သွား တော်မူ၏။- ထိုကောင်းမွန်သော ပြည် ကို ပေးသနားတော် မူ သည် ဖြစ်၍၊ သင်သည် ဝစွာစားရသောအခါ၊ သင်၏ဘုရားသခင် ထာဝရ ဘုရား၏ ဂုဏ် ကျေး ဇူးတော် ကို ချီးမွမ်းရမည်။
၁၁ ယနေ့ငါထင်ရှားသောစီရင်ထုံးဖွဲ့ချက်၊ ပညတ်တရား တော် တို့ ကို သင် သည် မ စောင့်၊ သင်၏ ဘုရားသခင်ထာဝရဘုရားကိုမေ့လျော့သောအ
၁၂ ပြစ်ကို သတိနှင့် ရှောင် လော့။- သင်သည် ဝစွာ စား၍ ကောင်းသောအိမ်ကို ဆောက်လျှက်နေရ
၁၃ မည်၊-သင်၏သိုးနွား၊ ရွှေငွေ အစရှိသော ဥစ္စာမျိုး
၁၄ များပြားစည်ထအခါ၊- သင်သည်မာနထောင်လွှားခြင်းသို့ရောက်၍၊ အထက်ကျွန်ခံနေရာအဲဂုတ္တုပြည်မှ ကယ်နှုတ်ဆောင် ထုတ်တော်မူထသော-
၁၅ မီးမြွေ၊ ကင်းမြီးကောက်များ၍၊ ရေမရှိ၊ အငတ်ခံရာ အရပ်၊ ကြောက်မက် ဘွယ်သော တောကြီးအထယ်၌ သင့်ကိုပို့ဆောင်၍ မီးယါကျောက်ထဲ
၁၆ ကရေကို ထွက်စေတော်မူထသော- သင့်ကိုနှိမ့်ချစုံစမ်း၍၊ နောက်ဆုံး၌ကျေးဇူးပြုလိုသောငှါ

သင်၏ ဘိုးဘေးမသိဘူးသော မန္နနှင့်ကျွေး
မွေးတော်မူသော သင်၏ဘုရားသခင် ထာ
၁၇ ဝရဘုရားကို မေ့လျော့၍၊- ငါ့တန်ခိုး၊ ငါ့လက်
အစွမ်းအားဖြင့်၊ ဤစည်းစိမ်ကို ငါရထတ်သည်
ဟု၊ စိတ်ထဲမှာ အောက်မေ့ခြင်းအဖြစ်ကို သတိ
၁၈ နှင့်ကြည့်ရှောင်လော့။-သင်၏ဘုရားသခင်ထာ
ဝရဘုရားကိုသာ အောက်မေ့ရမည်။ အကြောင်း
မူကား၊ သင်၏ဘိုးဘေးတို့အား ကျိန်ဆိုတော်မူ
သောပဋိညာဉ်တရားတော်ကို ယနေ့ကဲ့သို့ တည်
စေခြင်းငှါ၊ စည်းစိမ်ရထတ်သော အစွမ်း
၁၉ သတ္တိကို ဘုရားသခင် ပေးတော်မူ၏။- သင်၏
ဘုရားသခင် ထာဝရဘုရားကို သင်သည် မေ့
လျော့၍ အခြားတပါးသော ဘုရားတို့ကို
ဆည်းကပ်၍ ဝတ်ပြုကိုးကွယ် လျှင်၊ ဧကန်မုချ
ပျက်စီးခြင်းသို့ ရောက်လိမ့်မည်ဟု၊ ယနေ့ ငါသည်
၂၀ သင့်တဘက်၌ သက်သေခံ၏။-သင်၏ဘုရားသခင်
ထာဝရဘုရား၏ စကားတော်ကို နားမထောင်
သော ကြောင့်၊ ထာဝရဘုရားသည် သင့်ရှေ့မှာ
ဖျက်ဆီးတော်မူသော လူမျိုးများကဲ့သို့၊ ထိုနည်း
တူ၊ သင်သည် ဧကန်မုချ ပျက်စီးခြင်းသို့ ရောက်ရလိမ့်မည်။

၉

၁ ဣသရေလအမျိုး၊ နားထောင်လော့။ သင့်
ထက်အားကြီး၍ များပြားသောလူမျိုးတို့ကိုနှင်၊
မိုဃ်းကောင်းကင်ကို ထိသော မြို့ရိုးနှင့်ခြံရံ
၂ သောမြို့ကြီးတို့ကိုနှင်၊- အာနကအမျိုးသားရှေ့
မှာ အဘယ်သူ ရပ်နိုင်သနည်း ဟူသော စကား
ကို သင်ကြား၍၊ သင်သိသော အာနက အမျိုး
သားတည်းဟူသော၊ အထွန်ကြီးမြင့်သောလူ
မျိုးကိုနှင် ထုတ်ဘို့ခြင်းငှါ၊ ယနေ့ ယော်ဒန်မြစ်
၃ တဘက်သို့ကူးသွားပြီ။-သို့ဖြစ်၍၊ သင်၏ဘုရားသ
ခင်ထာဝရဘုရားသည် သင့်ရှေ့မှာကြွ သဖြင့်၊
လောင်သော မီးကဲ့သို့ ဖြစ်လျက် သူတို့ကိုဖျက်
ဆီး၍၊ သင့်မျက်မှောက်၌ နှိမ့်ချတော်မူမည်အ
ကြောင်းကို ယနေ့ သိလော့။ ထာဝရ
ဘုရား မိန့်တော်မူသည် အတိုင်း၊ သင်သည်သူ
တို့ကိုနှင်ထုတ်၍ အလျင်အမြန် ဖျက်ဆီးရလိမ့်
၄ မည်။-သင်၏ဘုရားသခင်ထာဝရဘုရားသည်သူ
တို့ကို သင့်ရှေ့မှ နှင်ထုတ်တော်မူသောနောက်၊
သင်သည်၊ ငါ့ဖြောင့်မတ်ခြင်းကြောင့် ထာဝရဘုရားသည်
ငါ့ကိုသွင်း၍၊ ဤပြည်ကိုအပိုင်ပေးတော်မူသည်
ဟု၍ မအောက်မေ့ရ။ ထိုလူမျိုးတို့၏ မကောင်းမှု
ကြောင့် ထာဝရဘုရားသည် သူတို့ကိုရှေ့မှနှင်
ထုတ်တော်မူသည်တည်း။ စိတ်ထဲမှာ အောက်မေ့
၅ ရမည်။-သင်ဖြောင့်မတ်သော ကြောင့်၎င်း၊ စိတ်နှလုံး
မတ်သောကြောင့်၎င်း၊ ထိုပြည်ကိုသွား
၍ ဝင်စားရမည်မဟုတ်။ ထိုလူမျိုးတို့၏ မ
ကောင်းမှုကြောင့်၎င်း၊ ထာဝရဘုရားသည် သင်
၏ အဘ အာဗြဟံ၊ ဣဇာက်၊ ယာကုပ်တို့အား
ကျိန်ဆိုတော်မူသော စကားတော်ကို တည်စေခြင်း
သောငှါ၎င်း၊ သင်၏ဘုရားသခင် ထာဝရဘုရား
၆ သည် သူတို့ကိုသင့်ရှေ့မှနှင်ထုတ်တော်မူ၏။-သို့
ဖြစ်၍၊ သင်၏ဘုရားသခင် ထာဝရဘုရားသည်
သင်၏ ဖြောင့်မတ်ခြင်းကြောင့်၊ ထိုကောင်းမွန်သော
ပြည်ကို ပေးတော်မူသည်မဟုတ်။ သင်သည်
ခိုင်မာသော အမျိုးဖြစ်၏။
၇ သင်သည်၊ သင်၏ဘုရားသခင်ထာဝရဘုရား
ကို အမျက်တော်ထွက်စေခြင်းငှါ၊ တော၌ ပြုမိ
သည်ကိုမမေ့နှင့်၊ အောက်မေ့လော့။ သင်သည်
အဲဂုတ္တုပြည်ထဲက ထွက်သော နေ့မှစ၍၊ ဤအ
ရပ်သို့ရောက်သည်တိုင်အောင်၊ ထာဝရဘုရား
၈ ကိုပုန်ကန်ပြီ။-ဟောရပ်အရပ်၌ ထာဝရဘုရား
ကိုအမျက်တော် ထွက်စေသဖြင့်၊ သင့်တို့ကိုဖျက်
ဆီးသောငှါ အောင် အမျက် ထွက်တော်မူ၏။-
၉ ထာဝရဘုရားသည် သင်တို့နှင့်ဖွဲ့သော ပဋိညာဉ်
တရားကို ရေးထားသော ကျောက်ပြားတို့ကိုခံ
ယူခြင်းငှါ၊ တောင်ပေါ်သို့ငါတက်သော အခါ၊
အရက်လေးဆယ်ပတ်လုံးရေနှင့်ကိုမစား၊ ရေကိုမ
၁၀ သောက်ဘဲ၊ တောင်ပေါ်မှာနေစဉ်၊- သင်တို့
ထည့်စည်းဝေးကြသော နေ့၌ ထာဝရဘုရား
သည် တောင်ပေါ်မှာ မီးထဲက မြွက်ဆိုတော်မူ
သောစကားတော်အလုံးစုံတို့ကို လက်ညှိုးတော်
ဖြင့် ရေးထားသောကျောက်ပြား နှစ်ပြားတို့ကို
ထာဝရဘုရားသည်ငါ့အားအပ်ပေးတော်မူ၏။-
၁၁ အရက်လေးဆယ် စေ့သောအခါ၊ ထိုပဋိညာဉ်
ကျောက်ပြား နှစ်ပြားကို ထာဝရ ဘုရားသည်
၁၂ ငါ့အား ပေးတော်မူလျှင်၊- သင်သည် ထ၍အ
လျင် အမြန် ဆင်းသွားလော့။ အဲဂုတ္တုပြည်မှ
သင်နှုတ်ဆောင်ခဲ့သောသင်၏လူတို့သည်ဖောက်
ပြန်၍၊ ငါမှာထားသောလမ်းမှအလျင်အမြန်လွှဲ
၁၃ ၍၊ ရုပ်တုကိုသွန်းကြပြီဟုမိန့်တော်မူ၏။-တဖန်
ထာဝရဘုရားက၊ ဤလူမျိုးကိုငါကြည့်မြင်ပြီ။
၁၄ ခိုင်မာသောအမျိုးဖြစ်၏။- သို့ဖြစ်၍၊
ငါ့ကိုမြစ်စေလော့။ သူတို့ကိုငါဖျက်ဆီးမည်။ သူတို့
နာမကိုလည်း ကောင်းကင် အောက်မှာ ငါချေ

စည်း၊ သင့်ကိုမူကား၊ သူတို့ထက်အားကြီး၍ များ
ပြားသောအမျိုးဖြစ်စေမည်ဟု၊ ငှါးမိန့်တော်
၁၅ မူ၏။- ထိုအခါငါသည်ပြန်လည် ကျောက်ပြား
နှစ်ပြားကိုကိုင်လျက်၊ လှည့်၍ မီးလောင်သော
၁၆ တောင်ပေါ်က ဆင်းသက်၏။- သင်တို့သည်သင်
တို့ဘုရားသခင်ထာဝရဘုရားကိုပြစ်မှား၍၊ နွား
သငယ်ရုပ်တုကို သွန်းခြင်းနှင့် ထာဝရ
ဘုရားမှာထားတော်မူသော လမ်းမှအလျင်အ
မြန်လွှဲသွားကြောင်းကိုငါသည်ကြည့်မြင်လျှင်၊-
၁၇ လက်နှစ်ဖက်နှင့်ကိုင်သောကျောက်ပြားတို့ကို
၁၈ ချ၍၊ သင်တို့မျက်မှောက်၌ ငါချိုးခွဲ၏။- သင်တို့
သည် ထာဝရဘုရားကို အမျက်တော်ထွက်စေ
ခြင်းငှါ၊ ရှေ့တော်၌ဒုစရိုက်ကိုပြုမိသောအပြစ်
ရှိသမျှတို့ကြောင့်၊ ငါသည် အရင် ပြုသကဲ့သို့၊
ထာဝရဘုရားရှေ့တော်၌ပြပ်ဝပ်၍ အရက်လေး
ဆယ်ပတ်လုံးမုန့်ကိုမစား၊ ရေကိုမသောက်ဘဲ
၁၉ နေရ၏။-အကြောင်းမူကား၊ ထာဝရဘုရားသည်
သင်တို့ကိုဖျက်ဆီးခြင်းငှါအလွန်ပြင်းစွာထွက်
သော အမျက်တော် အမှိန်ကို ငါကြောက်၏။ သို့
ရာတွင်၊ ထာဝရဘုရားသည် ငါ့စကားကို ထပ်၍
၂၀ နားထောင်တော်မူ၏။-ထာဝရဘုရားသည်လည်း၊
အာရုန်ကိုဖျက်ဆီးခြင်းငှါ အလွန်အမျက်ထွက်
တော်မူသောကြောင့်၊ အာရုန်အဖို့ကိုလည်း ငါ
၂၁ ဆုတောင်းလေ၏။- သင်တို့ ဒုစရိုက်တည်းဟူ
သော၊ သင်တို့လုပ်သောနွားသငယ်ကိုငါယူ၍ မီး
ဖြင့်အရည်ကျို၍၊ အမှုန့်ဖြစ်အောင်ညက်ညက်
ချေပြီးလျှင်၊ တောင်ထဲက ထွက်သော ချောင်း
ရေပေါ်မှာကျဲပစ်လေ၏။
၂၂ တဗေရအရပ်၊ မဿာအရပ်၊ ကိဗြုတ်ဟတ္တာ
ဝါအရပ်၌လည်း၊ သင်တို့သည် ထာဝရဘုရား
၂၃ ကိုအမျက်တော်ထွက်စေခြင်းပြုကြ၏။- ကာဒေ
ရှဗာနာအရပ်၌လည်း၊ ထာဝရဘုရားက၊ သွား
၍ ငါပေးသော ပြည်ကို သိမ်းယူကြလော့ဟု၊
သင်တို့ကို စေခိုင်းတော်မူသော အခါ၊ သင်တို့
သည်သင်တို့၏ ဘုရားသခင် ထာဝရဘုရား၏အ
မိန့်တော်ကိုငြင်းဆန်ကြ၏၊ ကိုယ်တော်ကို မယုံ၊
၂၄ စကားတော်ကိုနားမထောင်ဘဲနေကြ၏။-ငါသိ
ကျွမ်းသောနေ့မှစ၍၊ သင်တို့သည်ထာဝရဘုရား
၂၅ ကိုပုန်ကန်လျက်နေကြပြီ။-ထာဝရဘုရားသည်
သင်တို့ကို ဖျက်ဆီးမည် ဟု မိန့်တော်မူသော
ကြောင့်၊ငါသည်အရင်ပြပ်ဝပ်သကဲ့သို့၊အရက်
၂၆ လေးဆယ်ပတ်လုံးပြပ်ဝပ်လျက်နေရ၏။- ထာ
ဝရဘုရားအား လျှောက်၏။ အိုအရှင် ဘုရားသခင်၊
တန်ခိုးတော် အားဖြင့် ရွေးတော်မူ၍၊ အားကြီး
သောလက်တော်နှင့်အဲဂုတ္တုပြည်မှ နှုတ်ဆောင်
တော်မူသော၊ကိုယ်တော်၏အမွေဥစ္စာဖြစ်သော
၂၇ ဤလူတို့ကို ဖျက်ဆီးတော် မမူပါနှင့်။- ကိုယ်
တော်၏ကျွန်အာဗြဟံ၊ဣဇာက်၊ ယာကုပ်တို့ကို
အောက်မေ့တော်မူပါ။ ဤလူမျိုးသည် ခိုင်မာ
သော သဘောရှိ၍၊ ပြစ်မှားမိသောဒုစရိုက် အ
၂၈ ပြစ်ကို မှတ် တော် မမူပါနှင့်။- သို့မဟုတ်၊ အ
ကျွန်ုပ်တို့ကို နှုတ် ဆောင် တော်မူ သော ပြည်
သားတို့က၊ထာဝရဘုရားသည်ဂတိထားသော
ပြည်သို့ သူတို့ကို ဆောင် သွင်းခြင်းငှါ မတတ်
နိုင်သောကြောင့်၎င်း၊ သူတို့ကိုမုန်းသောကြောင့်
၎င်း၊ တော၌ သတ်လိုသောငှါ ထုတ်သွားပြီဟု
၂၉ ဆိုကြပါလိမ့်မည် တကား။- ဤလူ တို့ သည်
ကား၊ မဟာတန်ခိုးတော်နှင့် လက်ရုံးတော်ကို
ဆန့် သဖြင့် နှုတ် ဆောင် တော် မူ သော၊ ကိုယ်
တော်၏ အမွေဥစ္စာ ဖြစ်ကြပါသည်ဟု၊ ငါသည်
ဆုတောင်းလေ၏။

၁၀

၁ ထိုအခါထာဝရဘုရားက၊အရင်ကျောက်ပြား
နှစ်ပြားနည်းတူ၊ ကျောက်ပြားနှစ်ပြားကို ခုတ်
ဦးလော့၊ ငါရှိရာသို့ တက်လာလော့၊ သစ်တာ
၂ ကိုလည်း လုပ်လော့။- သင် ချိုးခွဲသော အရင်
ကျောက်ပြား၌စကားပါသည်အတိုင်း၊ ခုတ်
ကျောက်ပြားပေါ်မှာငါရေးထားဦးမည်၊ သင်
သည်ထိုကျောက်ပြားကို သစ်တာထဲမှာထားရ
၃ မည်ဟု၊ ငှါးမိန့် တော်မူ၏။- ငါသည်လည်း၊
အကာရှသစ်သားဖြင့်သစ်တာကိုလုပ်၍၊ အရင်
ကျောက်ပြားနည်းတူ၊ကျောက်ပြားနှစ်ပြားကို
ခုတ်ပြီးမှ၊ထိုကျောက်ပြားကိုကိုင်လျက်၊တောင်
၄ ပေါ်သို့တက်လေ၏။-သင်တို့စည်းဝေးသောနေ့
၌ထာဝရဘုရားသည်တောင်ပေါ်မှာမီးထဲကမိန့်
မြွက်တော်မူသောပညတ်တော်ဆယ်ပါးတို့ကို၊
အရင်စာ၌ ပါသည် အတိုင်း၊ ထာဝရဘုရား
၅ သည်ရေးထား၍ ငှါးပေးတော်မူ၏။-ငါသည်
လည်း၊ လှည့်၍ တောင်ပေါ်က ဆင်းသဖြင့်၊ လုပ်
ပြီးသောသစ်တာထဲ၌ ထိုကျောက်ပြားကို ထား
၍၊ထာဝရဘုရားမှာထားတော်မူသည်အတိုင်း၊
၁၀ ထိုသစ်တာထဲ၌ ယခုရှိ၏။- ငါသည်တောင်ပေါ်
မှာ အရင်နေသောကာလ နှင့်အမျှ၊ အရက်လေး
ဆယ်ပတ်လုံးတောင်နေပြန်၍၊ ထိုအခါ၌လည်း

ထိုက်သောသူတို့ကို ဧရုံပင်လယ်ရေလွှမ်းမိုးစေ
၍၊ ယနေ့တိုင်အောင် ဖျက်ဆီးတော်မူကြောင်း
၅ ကိုရင်း၊- ဤအရပ်သို့ မရောက်မှီ၊ တောသွင် လှည့်
လည်စဉ်တွင် သင်တို့အား ပြုတော်မူသော အ
၆ မှုကိုရင်း၊- ရုဗင်အမျိုး၊ ဧလျာဘ သားဒါသန်နှင့်
အဘိရံတို့အား ပြုတော်မူသော အမှုကိုရင်း၊ မြေ
ကြီးသည်မိမိခံတွင်းကိုဖွင့်၍ သူတို့နှင့် အိမ်သူ
အိမ်သားများ၊ တဲများ၊ သူတို့၌ ရတတ် သမျှ
သော ဥစ္စာပစ္စည်းများကို၊ ဣသ ရေ လ အမျိုး
သားတို့အလယ်၌၊ မျိုကြောင်းကိုရင်းမသိမမြင်
သောသင်တို့၏သားတို့၊ တို့အား ငါမပြော၊ သင်
၇ တို့ကိုယ်တိုင် သိမှတ်ကြလော့။- ထာဝရဘုရား
ပြုတော်မူသော အမှုကြီး အလုံးစုံတို့ကို သင်တို့
၈ သည်ကိုယ်တိုင်မြင်ကြပြီ။-ထို့ကြောင့်၊ သင်တို့
၉ သည်သွား၍ဝင်စားလတံ့သောပြည်ကိုကြီးစွာ
သော ခွန်အားနှင့်ဝင်စားမည်အကြောင်း၊ ထာ
ဝရဘုရားသည်သင်တို့၏ ဘိုးဘေး တို့နှင့် သူတို့
အမျိုးအနွယ်အား ပေး ခြင်းငှါ ကျိန်ဆိုတော်
မူသောပြည်၊ နို့နှင့်ပျားရည်စီးသောပြည်၌ သင်
တို့အသက်တာရှည်မည့်အကြောင်း၊ ယနေ့ငါမှာ
ထားသမျှသော ပညတ်တို့ကိုစောင့်ရှောက်ရကြ
၁၀ မည်။- သင်တို့သွား၍ ဝင်စား လတံ့သော ပြည်
သည်ကား၊ ယာလုပ်သကဲ့သို့၊ မျိုးစေ့ကြဲ၍ခြေ
ဖြင့် ရေလောင်းရသော ပြည် တည်း ဟူသော၊
သင် တို့ ထွက် လာ သော အဲဂုတ္တု ပြည် နှင့် တူ
၁၁ သည် မဟုတ်။- သင် တို့ သွား ၍ ဝင် စား လတံ့
သောပြည်သည် တောင်များ၊ ချိုင့်များနှင့်ပြည့်
၁၂ စုံ၍၊ မိုဃ်းရေကိုသောက်သောပြည်၊- သင်တို့
၏ဘုရားသခင်ထာဝရဘုရားပြုစု၍ တနှစ်ပတ်
လုံးကြည့်ရှုတော်မူသောပြည်ဖြစ်၏။
၁၃ သင်တို့ ဘုရား သခင် ထာဝရ ဘုရားကို စိတ်
နှစ်လုံး အကြွင်းမဲ့ ချစ်၍၊ အမှုတော်ကို ဆောင်
ရွက်မည့်အကြောင်း၊ ယနေ့ငါမှာထားသမျှသော
၁၄ ပညတ်တို့ကိုစေ့စေ့ နားထောင် လျှင်၊- သင်တို့
သည်စပါး၊ စပျစ်ရည်၊ ဆီတို့ကိုစုသိမ်းစေခြင်း
ငှါအရင်မိုဃ်း၊ နောက်မိုဃ်း တည်းဟူသော၊
သင်တို့ ပြည်နှင့်ဆိုင်သော မိုဃ်းရေကိုငါပေး
၁၅ မည်။-သင်တို့ သည်ဝစွာစားရမည်အကြောင်း၊
သင်တို့တိရစ္ဆာန်များအဖို့လွင်ပြင်၌မြက်ပင်ကို
၁၆ ငါပေါက်စေမည်။-သင်တို့သည် မိမိတို့အသူ
ကိုလှည့်၍ထမ်းမထွဲ၊ အခြားတပါးသောဘုရားတို့
ကိုဝတ်ပြု၊ ကိုးကွယ်ခြင်းနှင့်လမ်းလွှဲမည်အ
၁၇ ကြောင်း၊ ကိုယ်ကိုကိုယ်သတိပြုကြလော့။-သို့မ
ဟုတ်၊ ထာဝရဘုရားသည် အမျက်တော်ထွက်
၍မိုဃ်းမရွာ၊ မြေ၏အသီးအနှံ ကိုမဖြစ်စေခြင်း
ငှါ၊ မိုဃ်းကောင်းကင်ကိုပိတ်တော်မူမည်။ ထာ
ဝရဘုရား ပေးတော် မူ သော၊ ကောင်းစွန်သော
ပြည်၌သင်တို့သည်အလျင်အမြန် ပျောက်ပျက်
၁၈ ကြလိမ့်မည်။-သို့ဖြစ်၍၊ ငါဟောပြောသော ဤ
စကားကို စိတ်နှစ်လုံး၌ သွင်းထား၍၊ လက်၌
လက္ခဏာ သက်သေဖို့ရာရင်း၊ မျက်စိ ကြားမှာ
၁၉ သင်းကျစ် ကဲ့သို့ရင်း၊ ချည်ထားရကြမည်။- ထို
စကားကိုသင်တို့သည် အိမ်၌ထိုင်လျက်နေသည်
ဖြစ်စေ၊ ခရီးသွားသည်ဖြစ်စေ၊ အိပ်လျက်၊ ထ
လျက်ရှိသည်ဖြစ်စေ၊ဟောပြော၍၊သားသမီးတို့
၂၀ အားသွန်သင်ရကြမည်။- အိမ်တံခါး၊ မြို့တံခါး
၂၁ ၌လည်းရေးထားရကြမည်။-သို့ပြုလျှင်၊ထာဝ
ရဘုရားသည်ဘိုးဘေးတို့အားပေးခြင်းငှါကျိန်
ဆိုတော်မူသောပြည်၌ သင်တို့အသက်၊ သား
သမီးများ အသက် တာ သည်၊ ကောင်း ကင်၌ အ
သက်တာရှည်သကဲ့သို့၊မြေကြီးပေါ်မှာတာရှည်
၂၂ ရလိမ့်မည်။- သင်တို့သည်၊ သင်တို့၏ ဘုရားသ
ခင် ထာဝရ ဘုရား ကို ချစ် သော စိတ် နှင့် ထမ်း
တော်သို့လိုက်၍၊ ကိုယ်တော်၌ ဆည်းကပ် မှီခို
မည်အကြောင်း၊ငါမှာထားသမျှသောဤပညတ်
တို့ကို ကျင့်ဖို့သော ငှါ သတိ နှင့် စောင့် ရှောက်
၂၃ လျှင်၊-ထာဝရဘုရားသည်ဤလူမျိုးခပ်သိမ်းတို့
ကိုသင်တို့ရှေ့မှနှင်ထုတ်တော်မူသဖြင့်၊သင်တို့
သည်ကိုယ်ထက် အားကြီး၍ များပြားသောလူ
၂၄ မျိုးတို့ကိုအစိုးရကြလိမ့်မည်။-သင်တို့သည်ခြေ
နှင့်နင်းသမျှသောအရပ်ကိုပိုင်သဖြင့်၊တောမှစ
၍ လေဗနုန်တောင်တိုင်အောင်၎င်း၊ ဥဖရတ်မြစ်
ကြီးမှစ၍၊ပင်လယ်ကမ်းနားဆိုင်အောင်၎င်း၊မြေ
တရှောက် လုံးသည် သင်တို့၏ နိုင်ငံအဝင် ဖြစ်
၂၅ ရိမ့်မည်။- သင်တို့ရှေ့မှာအဘယ်သူမျှ မရပ်မ
နေနိုင် အောင်၊ သင်တို့နင်းသော မြေအရပ်၌ ရှိ
သောသူအပေါင်းတို့သည်သင်တို့ကိုကြောက်ရွံ့
ထိတ်လန့်မည် အကြောင်း၊ သင်တို့၏ ဘုရားသ
ခင် ထာဝရ ဘုရားသည်၊ ဂတိတော် ရှိသည်အ
တိုင်းပြုတော်မူမည်။
၂၆ ယနေ့ ကောင်း ကြီး ပေး ခြင်း နှင့် ကျိန် ခြင်း
တည်းဟူသော၊ ဤနှစ်ပါးကို သင်တို့ ရှေ့မှာ ငါ
၂၇ ထား၏။- ယနေ့ငါဆင့်ဆိုသော၊ သင်တို့ဘုရား
သခင် ထာဝရဘုရား၏ ပညတ် တော်တို့ကို နား

၂၈ ထောင်လျှောက်မှုကား၊ကျောင်းကြီးပေးခြင်း။– သင်
တို့ဘုရားသခင်ထာဝရဘုရား၏ပညတ်တော်တို့
ကိုနားမထောင်၊ သင်ရှေ့၌ဝါမှာထားသော လမ်းမှ
လွဲရှောင်၍၊ မသိဘူးသော၊ အခြားတပါးသော
ဘုရားကို မှီဝဲ သည်းကြောလျှောက်မှုကား၊ ကျိန်ခြင်း
၂၉ ကိုငါထား၏။–သင်တို့သည်သွား၍ဝင်စားသော
သောပြည်သို့သင်တို့၏ဘုရားသခင်ထာဝရဘုရား
သည် ဆောင် သွင်း တော် မူ ပြီးမှ၊ ကောင်း ကြီး
ပေးသောကိုဂေရိမ်တောင်ပေါ်၌၎င်း၊ ကျိန်ခြင်း
ကိုဧဗလတောင်ပေါ်၌၎င်းတင်ထားရကြမည်။–
၃၀ ထိုတောင်တို့သည်ယော်ဒန်မြစ်အနောက်၊ နေဝင်
ရာလမ်းမှာ ဂါနန်လူတို့နေရာ အရပ် တည်းဟူ
သော၊မောရေသပိတ်တောအနား၊ဂိလဂါလ မြို့
၃၁ နှင့် ဆိုင်သောလွင်ပြင်၌ ရှိသည်မဟုတ်လော။–
သင်တို့၏ဘုရားသခင်ထာဝရဘုရားပေးတော်မူ
သောပြည်ကိုဝင်စားခြင်းငှါ၊ယော်ဒန်မြစ်တဘက်
သို့ကူးသွား၍၊ ထိုပြည်ကိုဝင်စားလျက်နေရကြ
၃၂ သော်၊–သင်ရှေ့၌ငါထားသမျှသောစီရင်ထုံးဖွဲ့ချက်တို့
ကိုကျင့်စောင့်သောငှါ၊စောင့်ရှောက်ရကြမည်။

၁၂

၁ သင်တို့သည် မြေကြီးပေါ်မှာအသက်ရှင်သမျှ
သောကာလပတ်လုံး၊ဝင်စားစေခြင်းငှါ သင်တို့
ဘိုးဘေး ကိုးကွယ်သော ဘုရား သခင် ထာဝရ
ဘုရား ပေးတော် မူသောပြည်၌ ကျင့်စောင့်သောငှါ
စောင့် ရှောက် ရသော စီရင်ထုံး ဖွဲ့ချက်များဟူမူ
၂ ကား။– သင်တို့ အ မိုး ရသော လူမျိုး တို့ သည်
တောင်ကြီး၊ တောင်ငယ်အပေါ်၊ မြိမ်းသောသစ်
ပင်အောက်၌မိမိတို့ဘုရားများကို ဝတ်ပြုရာအ
၃ ရပ်ရှိသမျှတို့ကို ရှင်းရှင်း ဖျက်ဆီး ရမည်။–လူ
တို့၏ယဇ်ပလ္လင်များကိုလည်းဖြိုဖျက်ရမည်။ရုပ်တု
များကိုဖြို ချရမည်။ အာရှရ ပင် များကို မီး ရှို့ရ
မည်။ ထုလုပ်သော ဘုရားဆင်းတုများကို ခုတ်
ဖြတ်ရမည်။ ထိုအရပ်၌ထိုဘုရားတို့၏နာမကို
၄ ပယ် ပတ်ရှင်းရမည်။– လူတို့ပြုသကဲ့သို့၊ သင်တို့
သည်သင်တို့၏ဘုရားသခင်ထာဝရဘုရားအား
၅ မပြုရသော်။–သင်တို့၏ ဘုရားသခင်ထာဝရဘုရား
သည်၊ သင်တို့အမျိုးအနွယ်ရှိသမျှတို့တွင်နာမ
တော် ကို တည်စေခြင်းငှါ ရွေး ကောက် တော် မူ
သောအရပ်တည်းဟူသော၊ကျိန်းဝပ်တော်မူရာ
၆ အရပ်ကိုရှာ၍သွားရကြမည်။–ထိုအရပ်သို့သင်
တို့သည် မီးရှို့ရာ ယဇ်၊ အစရှိသော ယဇ်များ၊
ဆယ်ဘို့တဘို့ပူဇော်သကာ၊ ရှီးမြှောက်ရာပူဇော်

သကာ၊ ထ ဓနာဂတိနှင့်ဆိုင်သောပူဇော်သကာ၊
အလိုလို ပြုသော ပူဇော် သကာ မှစ၍၊ ဆိုးနွား
တွင် အဦး ဖွားသောသားငယ်တို့ကို ဆောင်ခဲ့ရ
၇ ကြမည်။–ထိုအရပ်၌၊သင်တို့၏ဘုရားသခင်ထာ
ဝရဘုရားရှေ့တော်၌စားရကြမည်။ပြုလေရာရာ
၌၊သင်တို့၏ဘုရားသခင် ထာဝရဘုရားကောင်း
ကြီးပေးတော်မူသဖြင့်၊ကိုယ်ထိုင်မှစ၍၊အိမ်သူ
အိမ်သား တို့သည် ရွှင်လန်း ခြင်းကို ပြုရကြ
၈ မည်။–ယခုကာလ၊ဤအရပ်၌ပြုသကဲ့သို့၊ထိုအ
ရပ်၌ လူတိုင်း ကိုယ်ညာဏ်ကို လိုက်၍ မပြုရ
၉ ကြ။–သင်တို့၏ ဘုရားသခင် ထာဝရဘုရားပေး
တော်မူသော အမွေခံရာချမ်းသာထဲသို့၊ သင်တို့
၁၀ သည်မဝင်ရကြသေး။– သင်တို့သည် ယော်ဒန်
မြစ်တဘက်သို့ကူး၍၊ သင်တို့အမွေခံရာတည်း၊ သင်
တို့၏ ဘုရား သခင် ထာဝရ ဘုရား ပေးတော်မူ
သောပြည်၌ နေကြသောအခါ၊ ရန်သူအပေါင်း
တို့ထံမှ သင်တို့ကို ကယ်နှုတ်တော် မူသဖြင့်
၁၁ ငြိမ် ဝပ်စွာ နေကြ သော အခါ။– နာမ တော်ကို
တည် စေခြင်းငှါ၊ သင်တို့၏ ဘုရား သခင် ထာဝရ
ဘုရားရွေးကောက်တော်မူသောအရပ်၌ရှိရမည်။
ထိုအရပ်သို့၊ငါမှာထားသမျှအတိုင်း၊သင်တို့မီး
ရှို့ရာယဇ်၊ အစရှိသောယဇ်များ၊ ဆယ်ဘို့တဘို့ပူ
ဇော်သကာ၊ ရှီးမြှောက်ရာပူဇော်သကာ၊ ထာဝ
ရဘုရားအားဂတိပြုသည်အတိုင်း၊မြတ်သောပူ
၁၂ ဇော်သကာတို့ကို ဆောင်ခဲ့ ရကြမည်။– ကိုယ်
ထိုင်မှစ၍၊သားသမီး၊ကျွန်ယောကျာ်းမိန်းမတို့နှင့်၊
ကိုယ်အဘို့မရှိ၊အမွေမခံရသဲ၊ သင်တို့၌တည်းခို
သောလေဝိသားတို့သည်သင်တို့၏ ဘုရားသခင်
ထာဝရဘုရား ရှေ့တော်၌ ရွှင်လန်းခြင်းကို ပြုရ
၁၃ ကြမည်။– တွေ့မြင်ရာရာအရပ်၌မီးရှို့ရာယဇ်ကို
မပူဇော်ရမည်အကြောင်း၊ သတိပြုကြလော့။–
၁၄ သင်တို့ အမျိုး တမျိုးတွင် ထာဝရ ဘုရား ရွေး
ကောက်တော် မူသောအရပ်၌ မီး ရှို့ရာယဇ်ကိုပူ
၁၅ ဇော်၍၊ငါမှာထားသမျှတို့ကို ပြုရကြမည်။–သို့
ရာတွင်၊ သင် ၏ ဘုရား သ ခင် ထာ ဝရ ဘုရား
ကောင်းကြီး ပေးတော်မူသည် အတိုင်း၊ သင်တို့
နေရာအရပ်ရပ်၌ စားလိုသောအလိုသို့လိုက်၍
သတ်စားရသော အခွင့်ရှိကြ၏။သမင်၊ဒရယ်ကို
စား သကဲ့သို့၊ စင်ကြယ် သောသူ၊ မစင် ကြယ်
၁၆ သောသူတို့ သည် အတူစားရကြမည်။– သွေးရာ
တွင်၊ အသွေးကိုမစားရ၊ ရေကိုသွန် သကဲ့သို့၊
မြေပေါ်မှာသွန်ရမည်။

၁၇ ပေါ်၊ သွန်းရမည်၊ ဆီထိတ်မှုတွင် ပူဇော်သော
ထမင်း၊ သိုး၊ နွားတွင် အဦးဖွားသော သားငယ်၊
သစ္စာဂတိနှင့် ဆိုင်သောပူဇော်သက္ကာ၊ အလိုလို
ပြုသော ပူဇော်သက္ကာ၊ ချီးမြှောက်ရာပူဇော်သ
က္ကာတစုံတခုကိုမျှ၊ သင်တို့သည် ကိုယ်နေရာအ
၁၈ ရပ်၌မစားရကြ၊- သင်တို့၏ ဘုရားသခင်ထာဝ
ရဘုရားရွေးကောက်တော်မူသောအရပ်၌၊သင်
တို့၏ ဘုရားသခင် ထာဝရ ဘုရားရှေ့မှာ ကိုယ်
တိုင်မှစ၍၊သား၊သမီး၊ကျွန်ယောက်ျား၊မိန်းမ၊တည်း
ခိုသောလေဝိသားတို့သည်စားရကြမည်၊ပြုလေ
ရာရာ၌၊သင်တို့၏ဘုရားသခင်ထာဝရဘုရားရှေ့
၁၉ တော်မှာရွှင်လန်းခြင်းကိုပြုရကြမည်၊-မြေကြီး
ပေါ်မှာအသက်ရှင်သမျှသော ကာလ ပတ်လုံး၊
လေဝိ သား တို့ကို မ ပစ် လျှော့ မည် အကြောင်း၊
၂၀ သတိပြုကြလော့၊- သင်၏ဘုရားသခင် ထာဝရ
ဘုရားသည် ဂတိတော်ရှိသည်အတိုင်း၊ သင်၏
နေရာပြည်ကိုကျယ်စေတော်မူသောအခါ၊ သင်
သည် အမဲသားကို စား ချင်သောစိတ်ရှိ၍၊ အမဲ
သားကိုငါစားမည်ဟုဆိုလျှင်၊စားချင်တိုင်းစား
၂၁ ရသောအခွင့်ရှိ၏၊-သင်၏ ဘုရားသခင်ထာဝရ
ဘုရားသည် နာမတော်ကို တည် စေခြင်းငှါ ရွေး
ကောက်တော်မူသောအရပ်သည် သင့်နေရာနှင့်
ဝေးလွန်းလျှင်၊ ထာဝရဘုရားပေးတော်မူသော
သိုးနွားကို၊ ငါမှာထား သည် အတိုင်း သတ်၍၊
ထင့်နေရာ အရပ်၌ စားချင်တိုင်း စားရ သော အ
၂၂ ခွင့်ရှိ၏၊ သမင်၊ဒရယ်ကိုစားသကဲ့သို့စားရမည်၊
စင်ကြယ်သောသူ၊ မစင်ကြယ်သောသူတို့သည်
၂၃ ရောနှော၍ စားရသော အခွင့် ရှိကြ၏၊- သို့ရာ
တွင်၊အသွေးကိုမစားမည်အကြောင်း၊ သတိပြု
လော့၊အသက်သည်အသွေး၌တည်၏၊အသား
၂၄ နှင့်တကွအသက်ကိုမစားရ၊-ထိုကြောင့်အသွေး
ကိုမစားရ၊ ရေကိုသွန်သကဲ့သို့၊ မြေပေါ်မှာသွန်
၂၅ ရမည်၊-သင်သည်၊ထာဝရဘုရားနှစ်သက်တော်
မူဖွယ်သောအမှုကို ပြုသဖြင့်၊ ကိုယ်တိုင်မှစ၍၊
သားမြေး တို့ သည် ချမ်း သာစွာ နေ ရ မည် အ
၂၆ ကြောင်း၊၊ အသွေးကိုရှောင်ရမည်၊- သင်၌သန့်
ရှင်းသောပူဇော်သက္ကာ၊ သစ္စာဂတိ အတိုင်း၊ပြု
သောပူဇော် သက္ကာတို့ကိုယူ၍၊ ထာဝရဘုရား
ရွေးကောက်တော်မူသောအရပ်သို့ သွားရမည်၊-
၂၇ အသားနှင့်အသွေးကိုရောနှော၍၊မီးရှို့ရာယဇ်
တို့ကို၊ သင်၏ဘုရားသခင်ထာဝရဘုရား၏ယဇ်
ပလ္လင်ပေါ်မှာပူဇော်ရမည်၊ယဇ်ကောင်အသွေး
ကို၊ သင်၏ဘုရား သခင် ထာဝရ ဘုရား၏ယဇ်
ပလ္လင်ပေါ်မှာသွန်းလောင်း၍၊ အသားကိုစားရ
၂၈ မည်၊- သင်၏ ဘုရားသခင် ထာဝရ ဘုရားနှစ်
သက်မြတ်နိုးတော်မူဖွယ်သောအမှုကိုပြုသဖြင့်၊
ကိုယ်တိုင်မှစ၍၊ သားမြေး အစဉ် အဆက်တို့
သည်ချမ်းသာစွာ နေရမည်အကြောင်း၊ ငါမှာ
ထားသမျှသောစကားတို့ကိုစေ့စေ့နားထောင်
၂၉ ၍စောင့်ရှောက်လော့၊- သင်သွား၍ ဝင်စားလေ
တံ့သောပြည်၌ရှိသောလူမျိုးတို့ကို၊သင်၏ဘုရား
သခင်ထာဝရဘုရားသည် သင့်ရှေ့မှာပယ်ရှင်း
တော်မူသဖြင့်၊ သူတို့နေရာပြည်၌သင်သည်ဝင်
၃၀ ၍နေသောအခါ၊-သူတို့သည်သင့်ရှေ့မှာဖျက်ဆီး
သောနောက်၊ သူတို့အကျင့်အတိုင်းသင်ကျင့်၍
အပြစ် မ ရောက်မည် အကြောင်း၊၊ ထိုလူမျိုးတို့
သည် သူတို့ဘုရားများကို အဘယ်သို့ဝတ်ပြုသ
နည်း၊ထိုနည်းတူငါပြုမည်ဟု၊သူတို့ဘုရားဝတ်
ကို မေးမြန်းမည်အကြောင်း၊ ကိုယ်ကိုကိုယ်
၃၁ သတိပြုလော့၊- သူတို့ပြုသကဲ့သို့၊ သင်၏ဘုရား
သခင် ထာဝရ ဘုရား အား သင် မ ပြုရ၊ သူတို့
သည်၊ ထာဝရဘုရား စက်ဆုပ် ရွံရှာတော် မူသ
မျှတို့ကို၊သူတို့ဘုရား၌ပြုကြပြီ၊ ကိုယ်သားသမီး
၃၂ ကိုပင်သူတို့ဘုရားအားဝတ်ပြု၍မီးရှို့ကြပြီ၊-ငါ
မှာထားသမျှတို့ကိုကျင့်ဆောင်စောင့်ရှောက်
လော့၊ထပ်၍မပို့ရ၊နှုတ်၍မလျှော့စေရ၊

၁၃

၁ သင်တို့တွင်ပရောဖက်ပြုသောသူ၊အိပ်မက်ကို
၂ မြင်သောသူသည်ပေါ်လာ၍၊ သင်တို့မသိသော
အခြားတပါးသောဘုရားကိုဆည်းကပ်၍ ဝတ်
ပြုကြစို့ဟုပြောဆိုလျက်၊ နိမိတ်လက္ခဏာ၊ အံ့
ဖွယ်သောအမှုကိုပေး၍၊ ထိုနိမိတ် လက္ခဏာ၊
၃ အံ့ဖွယ်သောအမှုသည်ပြည့်စုံသော်လည်း၊-ထို
ပရောဖက်ပြုသောသူ၊ အိပ်မက်ကိုမြင်သောသူတို့
၏စကားကို နားမထောင်ရ၊ အကြောင်းမူကား
သင်တို့ သည်၊ သင်တို့၏ ဘုရား သခင် ထာဝရ
ဘုရားကို၊ စိတ်နှစ်လုံးအကြွင်းမဲ့ချစ်သည်မချစ်
သည်ကို၊ သင်တို့၏ဘုရားသခင် ထာဝရဘုရား
၄ သည် စုံစမ်းတော်မူ၏၊- သင်တို့၏ ဘုရားသခင်
ထာဝရဘုရားနောက်တော်သို့လိုက်ရကြမည်၊
ကြောက်ရွံ့သော စိတ်နှင့် ပညတ်တော် တို့ကို
စောင့် ရ ကြမည်၊ စကား တော်ကို နား ထောင်
လျက်ဝတ်ပြု၍၊ ကိုယ်တော်၌ဆည်းကပ်မှီဝဲရ
၅ ကြမည်၊-ကျွန်ခံရာအဲဂုတ္တုပြည်မှသင်တို့ကို

ထုတ်နှုတ်ဆောင်ယူခဲ့တော်မူသော၊ သင်တို့၏ ဘုရားသခင်ထာဝရဘုရားထံတော်မှ သွေးဆောင်ခြင်း ငှါ၎င်း၊ သင်တို့၏ ဘုရား သခင် ထာ ဝ ရ ဘုရား သည်၊ သင်တို့ လိုက်စရာဘို့၊ မှာထားတော်မူ သော လမ်းမှ ထွက် စေ ခြင်းငှါ၎င်း ဟော ပြော သောကြောင့်၊ ထိုပရောဖက်ပြုသူ နှင့်အိပ်မက်မြင် သူတို့သည်အသေသတ်ခြင်းကိုခံရကြမည်၊ ထို သို့ရှုစနိုက်အပြစ်ကို သင်တို့အထဲကပယ်ရှင်းရ ကြမည်။

၆ သင်၏ညီအစ်ကိုရင်း၊ သင်၏သားသမီး၊ သင်၏ ရင်ခွင်၌နေသောမယား၊ ကိုယ်ကဲ့သို့မှတ်တတ် သောအဆွေခင်ပွန်း တစုံတယောက်က၊ သွား ကြစို့၊ သင်လည်းမသိ၊ ဘိုးဘေးတို့လည်း မသိ

၇ သော၊ အခြားတပါးသောဘုရား၊-သင့်ပတ်လည် အနီးအဝေး၌နေသောသူ၊ မြေကြီး၊ စွန်း၊ တစက်မှ အည်တစက်တိုင်အောင်၊ ကိုးကွယ်သောဘုရား တို့ဝတ်ပြုကြစို့ဟု၊ တိတ်ဆိတ်စွာ သွေးဆောင်

၈ လျှင်၊ သင်သည်ဝန်မခံရ၊ သူ၏စကားကို နားမ ထောင်ရ၊ သူ့ကိုမြင်သောအခါ၊ မသနားရ၊ နှစ် မြောသဖြင့်ဖွက်၍မထားရဘဲ၊ သူ့ကိုအမှန်သတ်

၉ ရမည်၊-သူသေဒဏ်အသေသတ်ခြင်းကိုခံစိမ့်သော ငှါ၊ သင်သည်အဦးပြုပြီးမှ၊ လူအပေါင်းတို့သည်

၁၀ ပြုရကြမည်၊- ကျွန်ခံနေရာ အဲဂုတ္တုပြည်မှသင် တို့ကိုနှုတ်ဆောင်တော်မူသော၊ သင်၏ဘုရားသ ခင် ထာဝရဘုရားထံတော်မှ လွှဲစေခြင်းငှါ ကြံ စည်သောကြောင့်၊ ထိုသူကိုကျောက်ခဲနှင့်ပြစ်၍

၁၁ အသေသတ်ရကြမည်၊- ထိုသိတင်းကို၊ ဣသ ရေလအမျိုးသားအပေါင်းတို့သည်ကြား၍၊ ထို သို့သောအဓမ္မအမှုကိုသင်တို့တွင် နောက်တဖန် မပြုဝံ့ဘဲနေကြလိမ့်မည်။

၁၂ အဓမ္မလူတို့သည် သင်တို့အထဲက ထွက်၍၊

၁၃ သင်တို့မသိသော၊ အခြားတပါးသောဘုရားထံ သို့သွား၍ ဝတ်ပြုကြစို့ဟုပြောဆိုလျက်၊ သူတို့ မြို့သူမြို့သားတို့ကိုသွေးဆောင်ကြောင်းကို၊ သင် ၏ဘုရားသခင်ထာဝရဘုရားသည် သင့်နေစရာ ဘို့ပေးတော်မူသောမြို့တစုံတမြို့၌ သင်သည်သိ တင်းကြားလျှင်၊ ထိုအမှုကို စေ့စေ့မေးမြန်း၍ စစ်

၁၄ ကြောရမည်၊-သိတင်းကြားသည်အတိုင်းထင် ရှားစွာကေန်မှန်၍၊ ထိုသို့သော စက်ဆုပ် ဖွယ်

၁၅ အမှုကိုသင်တို့တွင်အမှန်ပြုမိလျှင်၊- ထိုမြို့သူမြို့ သားတို့ကိုထားနှင့်လုပ်ကြံရမည်၊ မြို့မှစ၍၊ မြို့၌ ရှိသောလူနှင့်တိရစ္ဆာန်အပေါင်းတို့ကိုထားနှင့်

၁၆ ရှင်းရှင်းဖွတ်ဆီးရမည်။- လုယူရာဥစ္စာရှိသမျှ ကိုမြို့လမ်းမအလယ်၌စုပုံ၍၊ ထိုမြို့နှင့်တကွလု ယူရာဥစ္စာရှိသမျှကို သင်၏ဘုရားသခင်ထာဝရ ဘုရားအဘို့မီးရှို့ရမည်၊ ထိုမြို့သည်အစဉ်အမြဲ အမှိုက်ပုံ ဖြစ်ရမည်၊ နောက်တဖန် မတည်မ

၁၇ ဆောက်ရ၊- ထာဝရဘုရားသည်အမျက်တော် အရှိန်ကို ငြိမ်းစေ၍၊ သင်၏ ဘိုးဘေး တို့အား ဝတ်တော်ရှိသည်အတိုင်း၊ သင့်ကိုကယ်မသနား တော် မူ သ ဖြင့် များပြား စေ တော် မူ မည့် အ ကြောင်း၊၊ ကျိန်အပ်သော ဥစ္စာ တစုံတခုကိုမျှ စ

၁၈ ထိမ်းမယူဘဲ၊ အထုံးစုံတို့ကိုစွန့်ပြစ်ရမည်။- ထ နေ့ငါမှာထားသည်အတိုင်း၊ သင်၏ဘုရားသခင် ထာဝရဘုရား၏စကားတော်ကို နားထောင်၍၊ ပညတ်တော် အထုံးစုံတို့ကို ကျင့်သဖြင့်၊ သင်၏ ဘုရား သခင် ထာဝရ ဘုရား နှစ်သက် တော် မူ ဖွယ် ပြုသော အခါ၊ ရှေ့ဂတိတော် အတိုင်းပြု တော်မူမည်။

၁၄

၁ သင် တို့ သည် သင် တို့ ဘုရားသခင် ထာဝရ ဘုရား၏ သားဖြစ်ကြ၏၊ သေသောသူ အတွက် အသားကို မရုတ်မရှရ၊ ရှက်မှောင်ကြားမှာအ

၂ မွေးကိုမရိတ်ရ၊-သင်တို့သည်၊ သင်တို့၏ဘုရား သခင်ထာဝရဘုရားအဘို့၊ သန့်ရှင်းသောလူမျိုး ဖြစ်ကြ၏၊ ထာဝရဘုရားသည်မြေကြီးပေါ်မှာရှိ သမျှသောလူမျိုးထက်၊ ကိုယ်တော် ပိုင်ထိုက် သောအမျိုး၊ ဖြစ်စေခြင်းငှါ၊ သင်တို့ကို ရွေးချယ်

၃ တော်မူပြီ၊- စက်ဆုပ်ရွံရှာဖွယ် သော အရာကို

၄ သင် တို့ မစားရ၊- စားရ သော တိရစ္ဆာန် တို့ မူ

၅ ကား၊ နွား၊ သိုး၊ ဆိတ်၊- သမင်၊ ဒရယ်၊ ဆတ်၊ ကျီ၊

၆ ဗိုလ်ရှန်၊ ဖိုင်၊ ဇမေရအစရှိသော၊-ခွာကွဲပြား၍စား မြုံပြန် သော သားများကို စားရသော အခွင့် ရှိ

၇ ၏၊- သို့သော်လည်း၊ စားမြုံပြန်သောသား၊ ခွာ ကွဲပြားသောသားတို့တွင် မစားရသောသားဟူ မူကား၊ ကုလားအုတ်၊ အာရနထက်၊ ရှာဖန်တို့ သည်စားမြုံပြန်သော်လည်း၊ ခွာမကွဲပြားသော

၈ ကြောင့်၊သင်တို့၌မစင်ကြယ်။- ဝက်သည် ခွာကွဲ ပြားသော်လည်း၊ စားမြုံမပြန်သောကြောင့်၊ သင် တို့၌ မစင် ကြယ်၊ အသားကို မ စားရ၊ အသေ

၉ ကောင်ကိုလည်းမထိရ၊-ရေ၌နေသောတိရစ္ဆာန် အကာ တို့တွင် အထပ် နှင့် အကြေး ရှိ သော တိ

၁၀ ရစ္ဆာန်ကို သာ စားရ၏။- အထပ် နှင့် အကြေး မရှိသော တိရစ္ဆာန်ကို မစားရ၊ သင် တို့၌ မစင်

၁၁ ကြယ်။— စင်ကြယ်သော ငှက်အမျိုးမျိုးကိုစားရ
၁၂ သောအခွင့်ရှိ၏။— မစားရသောငှက်ဟူမူကား၊
၁၃ ရွှေလင်းတ၊ ပင်လယ်လင်းတ၊ လင်းယုန်၊— စါထ၊
၁၄၊၁၅ စွန်၊ လင်းတကြမ်းမျိုး။— ကျီးမျိုးရှိသမျှ၊— ကု
၁၆ လားအုတ်ငှက်၊ ငှက်ဆိုး၊ ဥရှင်း၊ သိမ်းမျိုး၊— ဇီ
၁၇ ကွက်၊ ဆူဇိတ်၊ ငှက်ကျား၊— ဝံပို၊ ဝံလို၊ ကြိုးကြာ၊—
၁၈ ဗောင်နီး၊ ဗုံးစပ်မျိုး၊ ဗုံးကုလား၊ လင်းနို့မှစ
၁၉ ၍၊— အတောင် ရှိလျက် တွားတတ် သော တိ
ရိစ္ဆာန် ရှိသမျှ တို့သည် သင်တို့၌ မစင်ကြယ်
၂၀ သည်ဖြစ်၍၊ အသားကိုမစားရ။— စင်ကြယ်သော
ငှက်အမျိုးမျိုးကိုစားရသောအခွင့်ရှိ၏။
၂၁ အလိုလိုသေသောအကောင်ကိုမစားရ။ သင်
တို့၌တည်းခိုသောတပါးအမျိုးသားစားစရာဘို့
ပေးရမည်။ သို့မဟုတ်၊ တပါးနိုင်ငံသားထံ၌
အရောင်းရမည်။ သင်တို့သည် သင်တို့၏ဘုရား
သခင်ထာဝရဘုရားအဘို့ သန့်ရှင်းသော လူမျိုး
ဖြစ်ကြ၏။ ဆိတ်သငယ်ကိုအမိနို့ရည်နှင့်မပြုတ်
၂၂ မချက်ရ။— လယ်ယာ၌ တနှစ်တနှစ်တွင်သိမ်းရ
သောအသီးအနှံ ဆယ်ဘို့တဘို့ကိုအမှန်ခွဲထားရ
၂၃ မည်။— သင်တို့၏ ဘုရားသခင် ထာဝရ ဘုရား
သည်၊ နာမတော်ကိုတည်စေဘို့ရာ ရွေးကောက်
တော်မူသောအရပ်၌ ပေါ်၊ ပျစ်ရည်၊ ဆီမှစ၍၊
ဆိုး၊ နွားတွင်အဦးဖွားသော သားငယ်ဆယ်ဘို့
တဘို့ကိုရှေ့တော်မှာစားရကြမည်။ ထိုသို့ပြုလျှင်၊
သင်တို့၏ ဘုရားသခင်ထာဝရဘုရားကိုအစဉ်
ကြောက်ရွံ့ရမည် အကြောင်း၊ သင်ရကြလိမ့်
၂၄ မည်။— သင်တို့၏ ဘုရားသခင် ထာဝရ ဘုရား
ကောင်းကြီး ပေးတော် မူသော အခါ၊ နာမတော်
ကိုတည်စေဘို့ရာရွေးကောက်တော်မူသောအရပ်
သည် ဝေးလွန်း၍ ခရီးရှည် လျှားသဖြင့်၊ ဥစ္စာ
၂၅ ဆယ်ဘို့တဘို့ကို ဆောင်၍ မသွားနိုင်လျှင်၊— ထို
ဥစ္စာကိုရောင်းပြီးမှ၊ ငွေကိုကိုင်လျက်၊ သင်တို့၏
ဘုရားသခင်ထာဝရဘုရားရွေးကောက်တော်မူ
၂၆ သောအရပ်သို့သွား၍၊— စားချင်သောစိတ်အလို
ရှိသည်အတိုင်း၊ နွား၊ သိုး၊ စပျစ်ရည်၊ သေရည်
အစရှိသော စားချင်သမျှ ကိုဝယ်၍၊ သင် တို့၏
ဘုရားသခင်ထာဝရဘုရားရှေ့တော်မှာ၊ အိမ်သူ
အိမ်သားများနှင့်တကွစားသောက်လျက်၊ ရွှင်
၂၇ လန်းခြင်းကိုပြုရကြမည်။— ထိုရာတွင်၊ သင်တို့၌
တည်းခိုသောလေဝိသားမူကား၊ သင်တို့နှင့်ရော
၍၊ အဘို့မရှိ၊ အမွေကိုမခံရသောကြောင့်၊ သူ့ကိုမ
၂၈ စွန့်မပြစ်ရတဲ့။— တတိယနှစ်လွန် သိမ်းသောအ
သီးအနှံ ဆယ်ဘို့တဘို့ရှိသမျှကိုထုတ်၍၊ မြို့ထဲမှာ
၂၉ သိုထားရမည်။— သင်တို့နှင့်ရော၍၊ အဘို့မရှိ၊ အ
မွေကို မခံရသော လေဝိသား၊ သင်တို့ နေရာအ
ရပ်၌ ရှိသောတပါးအမျိုးသား၊ မိဘမရှိသော
သူငယ်၊ မုဆိုးမများတို့သည်လာ၍ ဝစွာစားရ
ကြမည်။ သို့ဖြစ်လျှင်၊ သင်တို့၏ ဘုရား သခင်
ထာဝရ ဘုရား သည်၊ သင် တို့ ပြုလေ ရာရာ၌
ကောင်းကြီးပေးတော်မူမည်။

၁၅

၁၊၂ ခုနှစ်နှစ်တခါလွှတ်ခြင်းကိုပြုရမည်။— လွှတ်
ခြင်းတရား ဟူမူကား၊ ကိုယ်နှင့်စပ်ဆိုင်သော
လူအားဥစ္စာကိုချေးငှါးသောကြွေးရှင်မည်သည့်
ကား၊ ထိုကြွေးကို လွှတ်ရမည်။ ထာဝရ ဘုရား
လွှတ်ခြင်း က သမြတ်သောကြောင့်၊ ထိုကြွေးကို
၃ အိမ်နီးချင်း၊ ညီအစ်ကိုထံ၌ မတောင်းရ။— တ
ပါးနိုင်ငံသား၌တောင်းရသောအခွင့်ရှိ၏။
ညီအစ်ကို၌ ရှိသောကိုယ်ဥစ္စာကို မတောင်းဘဲ
၄ လွှတ်ရမည်။— သင်၌ဆင်းရဲသားမရှိစေခြင်းငှါ
ထိုသို့ပြုရမည်။ သင်၏ဘုရားသခင်ထာဝရဘုရား
သည် အမွေခံဘို့ရာအပိုင်ပေးတော်မူသောပြည်
၌သင့်ကိုအလွန်ကောင်းကြီးပေးတော်မူမည်။—
၅ ယနေ့ငါမှာထားသမျှသောဤပညတ်ထုံးကိုကျင့်
မည်အကြောင်း၊ စောင့်ရှောက်ခြင်းငှါ၊ သင်၏
ဘုရားသခင်ထာဝရဘုရား၏စကားတော်ကိုရှေ့
၆ ရှေ့နား ထောင်သော၊— သင်၏ဘုရား သခင် ထာ
ဝရဘုရား သည်၊ ဂတိ တော် ရှိသည် အတိုင်း
ကောင်းကြီးပေးတော်မူသဖြင့်၊ သင်သည်လူမျိုး
များတို့အားချေးငှါးရသောအခွင့်ရှိလိမ့်မည်။ သူ
တို့သည်သင့်အားချေးငှါးသောအခွင့်မရှိရ။ သင်
သည်လူမျိုးများတို့ကို အစိုးပိုင်ရလိမ့်မည်။ သူ
၇ တို့သည်သင့်ကိုအစိုးမပိုင်ရကြ။— သင်၏ဘုရား
သခင်ထာဝရဘုရားပေးတော်မူသောပြည်တွင်၊
မြို့တမြို့တမြို့၌ ဆင်းရဲသော ညီအစ်ကို ရှိမူ
လျှင်၊ ထိုဆင်းရဲသောညီအစ်ကို၌သင်သည်ခ
နားသောစိတ်ကိုမချုပ်တည်းရ။ လက်ကိုအဦး
၈ မပိတ်ရ။— သင်၏လက်ကိုလုအမှီ ကျယ်ကျယ်
ဖွင့်၍၊ သူ၏ဆင်းရဲ လွှာတ်လောက်အောင်ချေး
၉ ငှါးရမည်။— သင့်စိတ်နှလုံး၌ ဆိုးညစ်သောသ
ဘောရှိ၍၊ သတ္တမနှစ်တည်းဟူသော၊ လွှတ်ရာ
နှစ်နီးပြီဟုအောင်းမေ့လျက်၊ ထိုဆင်းရဲသောညီ
အစ်ကိုကိုမနာလိုသောစိတ်ရှိ၍၊ ထာမျှမပေးဘဲ
နေလျှင်၊ သူသည် ထာဝရဘုရားအားအော်ဟစ်

သဖြင့်၊ သင်၌အပြစ်မရောက်မည်အကြောင်း အသ
၁၀ တိပြုလော့။- အကယ်၍စင်စစ်သူအားပေးရမည်။
ပေးသောအခါ၊ နှမြောသော စိတ်မရှိရ။ အ
ကြောင်းမူကား၊ ထိုဒါနကြောင့် သင်၏ဘုရားသ
ခင်ထာဝရဘုရားသည်၊ သင်ပြုလေရာရာ၊ လုပ်
ဆောင်လေရာရာ၌ ကောင်းကြီးပေးတော်မူ
၁၁ မည်။- သင့်နေရာပြည်၌ ဆင်းရဲသား မပြတ်ရ။
ထိုကြောင့်၊ သင့်ပြည်၌ ဆင်းရဲငတ်မွတ်သောညီ
အစ်ကိုချင်း ထိုအား သင်၏လက်ကိုကျယ်ကျယ်
ဖွင့်ရမည်အကြောင်း ငါမှာထား၏။
၁၂ သင်၏ညီအစ်ကိုချင်း ဟေဗြဲအမျိုးယောက်ျား
မိန်းမသည် သင်၌ကျွန်ဖြစ်၍၊ ခြောက်နှစ်အစေခံပြီး
၁၃ မှ၊ သတ္တမနှစ်ရောက်လျှင်၊ လွှတ်ရမည်။- လွှတ်
၁၄ သောအခါ၊ လက်ချည်းမလွှတ်ဘဲ၊- သင်၏ဘုရား
သခင်ထာဝရဘုရားသည် ကောင်းကြီးပေးတော်
မူသည်အတိုင်း၊ သင်၏သိုးစု၊ ကောက်နယ်တ
လင်း၊ စပျစ်သီးနယ်ရာကျင်းထဲက ရွေး၍ပေးရ
၁၅ မည်။- သင်သည် အဲဂုတ္တုပြည်၌ ကျွန်ခံခဲ့ဘူး
ကြောင်းကို၎င်း၊ သင်၏ ဘုရား သခင် ထာဝရ
ဘုရားသည်သင့်ကိုရွေးနုတ်တော်မူကြောင်းကို
အောက်မေ့ရမည်။ ထိုကြောင့်၊ ဤပညတ်ကို
၁၆ ယနေ့ ငါထား၏။- သို့ရာတွင်၊ ကျွန်က၊ ကျွန်
တော်သည် မထွက်မသွားလိုပါ။ ကိုယ်တော်
နှင့်ကိုယ်တော်အိမ်သူအိမ်သားတို့ကိုချစ်ပါ၏။
၁၇ နေ၍ပျော်ပါ၏ဟုဆိုလျှင်၊- သင်သည်စူးကိုယူ
၍၊ တံခါး၌ကျွန်၏နားရွက်ကိုဖောက်ပြီးမှ၊ သူ
သည် အစဉ်အမြဲ ကျွန်ခံရမည်။ ထိုနည်းတူ ကျွန်
၁၈ မ၌လည်းပြုရမည်။- သင်၏ကျွန်ကို လွှတ်သော
အခါ၊ ခက်သည် ဟူ၍ မထင်ရ။ အကြောင်းမူ
ကား၊ ခြောက်နှစ်ပတ်လုံးအစေခံသဖြင့်၊ သူငှါး
ဆောင်ရွက်သောအမှုနှစ်ဆကိုသူသည်ဆောင်
ရွက်လေပြီ။ သင်၏ဘုရားသခင်ထာဝရဘုရား
သည်လည်း သင်ပြုလေရာရာ၌ ကောင်းကြီးပေး
၁၉ တော်မူမည်။- သင်၏သိုးနွားတို့တွင် အဦးဖွား
သော အထီး မှန်သမျှတို့ကို၊ သင်၏ ဘုရား သခင်
ထာဝရ ဘုရားအဖို့ သန့်ရှင်းစေရမည်။ အဦး
ဖွားသော နွား၊ အဦး ဖွားသော သိုး ကို မ သုံး
၂၀ ဆောင်ရ။- ထာဝရဘုရား ရွေးကောက်တော်မူ
သောအရပ်၌၊ သင်၏ဘုရားသခင်ထာဝရဘုရား
ရှေ့တော်မှာ၊ ထိုသိုးနွားတို့ကို နှစ်စဉ်မပြတ်
အိမ်သူအိမ်သားနှင့်တကွ၊ ကိုယ်တိုင်စားရ
၂၁ မည်။- ထိုသိုးနွားတို့၌ခြေဆွံ့၊ မျက်စိကန်း၊ အစ
ရှိသော၊ အစရှိ ချို့တဲ့ခြင်းအပြစ်၊ မကောင်းသောအ
ပြစ်တစုံတခုရှိလျှင်၊ သင်၏ဘုရားသခင်ထာဝရ
၂၂ ဘုရားအား ယဇ်မပူဇော်ရ။- သင့်နေရာအရပ်
၌စားရမည်။ သမင်၊ ဒရယ်ကိုစား သကဲ့သို့ စင်
ကြယ်သောသူ၊ မစင်ကြယ်သောသူတို့သည်အ
၂၃ တူစားရကြမည်။- သို့ရာတွင်၊ အသွေးကိုမစား
ရ။ ရေကိုသွန်သကဲ့သို့ မြေပေါ်မှာသွန်ရမည်။

၁၆

၁ သင်၏ဘုရားသခင်ထာဝရဘုရားသည် အဘိ
ဗလ၊ ညဉ့်အခါ၌ သင့်ကိုအဲဂုတ္တုပြည်မှ နှုတ်
ဆောင်တော်မူသောကြောင့်၊ အဘိဗလကို မှတ်
၍၊ သင်၏ဘုရားသခင်ထာဝရဘုရားအား ပသခါ
၂ ပွဲကိုခံလော့။- ထာဝရဘုရားသည်နာမတော်ကို
တည်စေခြင်းငှါ ရွေးကောက်တော်မူသော အရပ်
၌၊ သိုးနွားတို့ကိုယဇ်ပူဇော်၍၊ သင်၏ဘုရားသ
ခင်ထာဝရ ဘုရားအား ပသခါပွဲကို ခံရမည်။-
၃ သင်သည် အဲဂုတ္တုပြည်မှ ထွက်လာ သောနေ့
ရက်ကို၊ တသက်လုံးအောက်မေ့ခြင်းငှါ ပသခါပွဲ
ခံစဉ်၊ တဆေးပါသောမုန့်ကိုမစားရဘဲ၊ တဆေး
မပါသော မုန့်တည်းဟူသော ဒုက္ခမုန့်ကို ခုနစ်
ရက်ပတ်လုံး စားရမည်။ အကြောင်းမူကား၊
သင်သည်အဲဂုတ္တုပြည်မှအလျင်တဆောထွက်
၄ လာသတည်း။- ခုနစ်ရက်ပတ်လုံး၊ သင့်နေရာ
ပြည်၌၊ တဆေးပါသောမုန့်မရှိရ။ ပဌမနေ့ညဦး
ယံ၌ပူဇော်သောယဇ်၏အသားကို တညဉ့်လုံး
၅ နံနက်ထိုင်အောင် မကျန်ကြွင်းစေရ။- သင်၏
ဘုရားသခင်ထာဝရဘုရား ပေးတော်မူသော မြို့
အရပ်ရပ်တို့တွင်၊ ပသခါယဇ်ကိုပူဇော်ရသော
၆ အခွင့်ရှိသည်မဟုတ်။- သင်၏ဘုရားသခင်ထာ
ဝရဘုရားသည်၊ နာမတော်ကိုတည်စေခြင်းငှါရွေး
ကောက်တော်မူသောအရပ်မှာ၊ သင်သည်အဲ
ဂုတ္တုပြည်မှ ထွက်လာသော အချိန်၊ နေဝင်ရာ
ညဦးယံအချိန်၌ ပသခါယဇ်ကိုပူဇော်ရမည်။-
၇ သင်၏ဘုရားသခင် ထာဝရဘုရား ရွေးကောက်
တော်မူသောအရပ်မှာ၊ မီးနှင့်ကင်၍ စားပြီးမှ၊
၈ နံနက်အချိန်၌အိမ်သို့ပြန်သွားရမည်။- ခြောက်
ရက်ပတ်လုံး တဆေးမဲ့မုန့်ကိုစားရမည်။ သတ္တမ
နေ့၌၊ သင်၏ဘုရားသခင်ထာဝရဘုရားအဖို့၊ စည်း
စည်းဝေးခြင်းကိုပြုရမည်။ ထိုနေ့ရက်၌ အလုပ်
မလုပ်ရ။
၉ စပါးကိုရိတ်စကာလနောက်၊ အရေအတွက်
၁၀ အားဖြင့် ခုနစ်သိတင်းလွန်မှ၊- သင်၏ဘုရား

သခင်ထာဝရဘုရားအဖို့၊ ခုနစ်သီတင်းပွဲကိုခံ၍
သင်၏ဘုရားသခင်ထာဝရဘုရား ကောင်းကြီး
ပေးတော်မူသည်အတိုင်း၊ အလိုလို ပြုသောပူ
၁၁ ဇော်သကာကို ဆောင်ခဲ့ရမည်။- သင်၏ဘုရား
သခင်ထာဝရဘုရားသည်နာမတော်တည်စေဖို့
ရွေးကောက်တော်မူသောအရပ်တွင်၊ သင်၏
ဘုရားသခင် ထာဝရ ဘုရားရှေ့တော်၌၊ ကိုယ်
တိုင်မှစ၍၊ သားသမီး၊ ကျွန်ယောကျ်ားမိန်းမ၊ သင့်
နေရာ၌တည်းခိုသောလေဝိသား၊ သူသည်အာ
ဂန္တု၊ မိဘ မရှိသောသူ၊ မုဆိုးမ တို့သည် ရွှင်
၁၂ လန်းခြင်းကို ပြုရကြမည်။- သင်သည်အဲဂုတ္တု
ပြည်၌ကျွန်ခံခဲ့ဘူးကြောင်းကိုအောက်မေ့၍၊ ဤ
ပညတ်တရားတို့ကို ကျင့်စောင့်ရမည်။
၁၃ စပါးနှင့်စပျစ်ရည်ကိုသိမ်းယူပြီးမှ၊ ခုနစ်ရက်
၁၄ ပတ်လုံးသကေနေပွဲကိုခံရကြမည်။-ထိုပွဲခံစဉ်၊
ကိုယ်တိုင်မှစ၍၊ သားသမီး၊ ကျွန်ယောကျ်ားမိန်းမ၊
သင့်နေရာ၌ တည်းခို သော လေဝိ သား၊ သူ
သည် အာဂန္တု၊ မိဘမရှိ သောသူ၊ မုဆိုးမတို့
၁၅ သည် ရွှင်လန်းခြင်းကို ပြုရကြမည်။- ထာဝရ
ဘုရားရွေးကောက်တော်မူသောအရပ်၌၊ ခုနစ်
ရက်ပတ်လုံးသင်၏ ဘုရားသခင်ထာဝရ ဘုရား
အဖို့၊ ဓမ္မပွဲကို ခံရမည်။သင်၏ဘုရား သခင်ထာ
ဝရဘုရားသည်၊ တိုးပွားလေရာရာ၊ သင်လုပ်
ဆောင် လေ ရာ ရာ၌ ကောင်း ကြီး ပေး တော်မူ
သောကြောင့်၊ အမှန်ရွှင်လန်းခြင်းကိုပြုရမည်။
၁၆ အစာမပွဲခံချိန်၊ ခုနစ်သီတင်းပွဲခံချိန်၊ သကေ
နေပွဲခံချိန်တည်းဟူသော၊ တနှစ်တွင်သုံးကြိမ်
မြောက်အောင် သင်တို့ ယောကျ်ား အပေါင်းတို့
သည်၊ သင်၏ ဘုရားသခင် ထာဝရဘုရား ရွေး
ကောက်တော်မူသောအရပ်၌၊ရှေ့တော်မှာဈက်
နှာပြရကြမည်။ထိုအခါ၊ထာဝရဘုရားထံတော်
သို့၊ အဘယ်သူမျှ ထက်ချည်း မပေါ်မလာရ။-
၁၇ သင်၏ ဘုရားသခင် ထာဝရဘုရား ကောင်းကြီး
ပေး တော်မူ သဖြင့်၊ လူအသီး အသီး တို့သည်
၁၈ တတ်နိုင်သည်အတိုင်းဆက်ရကြမည်။-သင်၏
ဘုရားသခင်ထာဝရဘုရား ပေးတော်မူသောမြို့
ရွာသမျှတို့တွင်၊တရားသူကြီး၊ အရာရှိတို့ကိုသင့်
နေရာခရိုင်များ၌အနှံ့အပြားခန့်ထားရမည်။သူ
တို့သည်၊လူမျိုးတို့တွင်၊ တရားမှုကိုတရားသဖြင့်
၁၉ စီရင်ရကြမည်။-သင်သည်တရားလမ်းမှမလွှဲရ။
လူမျက်နှာကိုမထောက်ရ။ တံစိုးကိုမစားရ။တံ
စိုးသည် ပညာရှိ၏ မျက်စိကို ကွယ်စေ တတ်၏။

ဖြောင့် မတ် သော သူ၏ စကား ကို ကောက် စေ
၂၀ တတ်၏။-သင်၏ဘုရားသခင်ထာဝရဘုရားပေး
တော်မူသောပြည်ကို၊ သင်သည်အသက်ရှင်၍
အမွေခံမည် အကြောင်း၊ ဖြောင့်သော တရား
၂၁ လမ်းသို့သာ လိုက်ရမည်။- သင်၏ဘုရားသခင်
ထာဝရဘုရားအဖို့၊သင်တည်သောယဇ်ပလ္လင်
အနားမှာ အဘယ်သို့ သော အာရှရ ပင် ကိုမျှမ
၂၂ စိုက် ရ။- သင်၏ ဘုရား သခင် ထာ ဝ ရ ဘုရား
ရွံ့ရှာ တော် မူ သော ရုပ်တု ဆင်းတု ကို မ တည်
မထားရ။

၁၇

၁ အပြစ်ပါသော သိုး၊ နွား၊ ထုတ်သော ထင်ရှား
ထာပါသော သိုး၊နွားကို၊ သင်၏ဘုရား သခင်
ထာဝရဘုရားအားယဇ်မပူဇော်ရ။ ထိုသို့သော
ယဇ်ကိုသင်၏ ဘုရားသခင်ထာဝရဘုရားသည်
စက်ဆုပ်ရွံရှာတော်မူ၏။
၂ သင်၏ဘုရားသခင်ထာဝရဘုရားပေးတော်မူ
၃ သော မြို့တို့တွင်၊ နေ၊လ၊ ငါ့ဃ်းကောင်း၊ကင်းတန်
ဆာအစရှိသော၊ငါမြစ်တားသမျှအခြားတပါး
သော ဘုရား တို့ကို သွား၍ ဝတ်ပြု ကိုး ကွယ်သ
ဖြင့်၊ သင် ၏ဘုရားသ ခင်ထာ ဝရ ဘုရား၏ ပဋိ
ညဉ်ကိုလွန်ကျူး၍၊ရှေ့တော်၌ဒုစရိုက်ကိုပြုမိ
၄ သောယောကျ်ား မိန်းမရှိသည်ဟု၊- သင်သည်သိ
တင်းကြား၍စေ့စေ့မေးမြန်းသောအခါ၊ဣသရေ
လအမျိုး၌ ထိုစက်ဆုပ်ရွံရှာဖွယ်သော အမှုကို
၅ ပြုမိ သည် မှန်လျှင်၊- ထိုဒုစရိုက်ကို ပြုမိသော
ယောကျ်ား မိန်းမကို မြို့တံခါး ဝသို့ ထုတ် ပြီးလျှင်၊
၆ ကျောက်ခဲနှင့်ပြစ်၍အသေသတ်ရမည်။- သက်
သေခံ နှစ်ယောက် သုံး ယောက် ရှိ လျှင်၊ သေ
ထိုက်သောသူသည်အသေခံရမည်။သက်သေခံ
၇ တယောက် တည်း ရှိလျှင်၊ အသေ မခံရ။- ထိုသူ
ကိုအသေသတ်မိမ့်သောငှါ၊သက်သေခံတို့သည်
အဦးပြုပြီးမှ၊ လူအပေါင်းတို့သည် ပြုရကြမည်၊
ထိုသို့ ပြုလျှင်၊ သင်တို့မှ ဒုစရိုက် ကို ပယ် ရကြ
လိမ့်မည်။
၈ သင့်နေရာမြို့တွင် လူအသက်ကို သတ်ခြင်းအ
မှု၊တရားတွေ့ခြင်းအမှု၊လူချင်းရိုက်ပုတ်ခြင်းအ
မှုတို့သည် မင်းရှေ့သို့ရောက်၍ မစီရင်မဆုံးဖြတ်
နိုင်လျှင်၊ သင်၏ဘုရားသခင် ထာဝရဘုရားရွေး
၉ ကောက်တော်မူသောအရပ်သို့သွား၍၊-ထိုကာ
လအခါ တရားသူကြီးလုပ်သောသူ၊ ယဇ်ပုရော
ဟိတ်၊ လေဝိသားတို့ ရှေ့မှာ အစီရင် ခံ ရမည်။

လူတို့ သည်ထည်၏ မိရင်ချက်ကို စော်ပြရမည်။-
၁၀ ထာဝရဘုရား ရွေးကောက်တော်မူသောအရပ်
အား ထိုသည် စော်ပြသော မိရင် ချက် အတိုင်း
ထင်သည်ပြုရမည်။သူတို့ထွန်သင်ထဋ္ဌိအတိုင်း
၁၁ ပြုရခြင်းငှါရှောင်ရှောက်ရမည်။- သူတို့စော်ပြ
သောစွာသတ်မိရင်ချက်၊ ကြား ပြောသော ဆုံး
ဖြတ်ချက် ရှိသည် အတိုင်း ပြုရ မည်၊ သူတို့ ပြ
သောမိရင်ချက်မှလက်ျာထက်၊ထက်ဝဲထက်သို့
၁၂ မလွှဲရ။- သင်၏ ဘုရား သခင် ထာဝရ ဘုရားရှေ့
တော်၌ အမှု တော် ကို စောင့် သော ယဇ် ပရော
ဟိတ်၊ တရားသူကြီး စကားကို နားမထောင်ဘဲ၊
ရဲရင့်စွာပြုသောသူကိုအသေသတ်သဖြင့်၊ဣသ
၁၃ ရေလ အမျိုး မှ ဒုစရိုက်ကို ပယ် ရမည်၊- ထိုသိ
တင်း ကို လူ ခပ် သိမ်း တို့ သည် ကြား လျှင်၊
ကြောက် ရွံ့သော စိတ်ရှိသဖြင့် နောက် တဖန်ရဲ
ရင့်စွာမပြုဘဲနေကြလိမ့်မည်။
၁၄ သင်၏ဘုရားသခင်ထာဝရဘုရားပေးတော်မူ
သောပြည်ကို သင် သည် ဝင်စား၍ နေသောအ
ခါ၊အခြားပတ်ထည်၌နေသော၊ တပါးသော
လူမျိုး အပေါင်းတို့ နည်းတူ၊ ငါသည်ရှင်ဘုရင်
အရာ၌ တစုံ တယောက်ကို ချီး မြှောက် မည်ဟု
၁၅ ဆိုလျှင်၊-သင်၏ဘုရားသခင်ထာဝရဘုရားရွေး
ကောက်တော် မူသောသူ၊ ညီအစ်ကို အမျိုးသား
ချင်းကိုသာရှင် ဘုရင် အရာ၌ ချီးမြှောက်ရမည်၊
ညီအစ်ကိုအမျိုးသားချင်းမဟုတ်သောတပါးအ
၁၆ မျိုးသားကိုမချီးမြှောက်ရ။-ထိုရှင်ဘုရင်သည်
ကိုယ်အဖို့မြင်းများစွာသောမြင်းတို့ကိုမမွေးရ၊မြင်း
များပြား စေခြင်း ငှါ၊ အဲဂုတ္တု ပြည်သို့ လူကိုမ
ပြန်စေရ၊အကြောင်းမူကား၊ထိုလမ်းသို့မပြန်မ
၁၇ သွားရဟုထာဝရဘုရားအမိန့်တော်ရှိ၏၊-သူ၏
စိတ်နှလုံးသည်ဖောက်ပြန်ခြင်းနှင့်ကင်းလွတ်
မည်အကြောင်း၊များစွာသောမယားတို့ကိုမယူ
၁၈-၂၀ ရ၊ ရွှေငွေကိုအဦးများစွာမဆည်းဖူးရ၊-ထို
ရှင်ဘုရင်သည်သားစဉ်မြေးဆက်နှင့်တကွ၊ဣ
သရေလအမျိုး၌ အသက်တာရှည်စွာမိုးစံခြင်း
အလို့ငှါ၊ သူ၏ဘုရားသခင်ကိုကြောက်ရွံ့၍၊ ဤ
ပညတ်တရား စကားတော် အလုံးစုံတို့ကိုကျင့်
စောင့်စောင်ထွန်းသင်မည်အကြောင်း၊ သူ၏ညီ
အစ်ကိုတို့ကိုမထီမဲ့မြင်ပြု၍မာနထောင်လွှားသ
ဖြင့်၊ တရားထုံးမှ လက်ျာထက်၊ ထက်ဝဲထက်
သို့မလွှဲမည် အကြောင်း၊ နန်းတော်ပေါ်မှာထိုင်
သော အခါ၊ လေဝိသားယဇ် ပရော ဟိတ် ၌ရှိ

သော၊ ဤ စွာ ပညတ် တရား စာ ကို ရေး ကူး ၍၊
ထက်ဝဲ စာကိုဲ ထသထ် ထုံးစောင့်ရှောက်ကြည့်
ရှုမှတ်ရမည်။

၁၈

၁ လေဝိသား ဝင်စားပရောဟိတ်အစရှိသော၊လေ
ဝိသားအပေါင်းတို့သည် ဣသရေလအမျိုးသား
တို့နှင့် ရော၍၊အဖို့မရှိ၊ အမွေမခံရဘဲ၊ ထာဝရ
ဘုရား၏ အမွေတည်းဟူသော၊ မီးဖြင့်ပြုသောပူ
၂ ဇော် ထက်ာတို့ကို စားရကြမည်။- ထိုကြောင့်၊
သူတို့သည် ညီအစ်ကိုများနှင့်အတူ အမွေမခံရ
ကြ၊ထာဝရဘုရားသည်၊ အမိန့်တော်ရှိသည်အ
၃ တိုင်း၊သူတို့၏အမွေဖြစ်တော်မူ၏။- လူတို့သည်
ယဇ်ပူဇော်သောအခါ၊နွားဖြစ်စေ၊ သိုးဖြစ်စေ၊
ယဇ်ပရောဟိတ်ခံရသောအဖို့၊ပခုံးတစက်၊ပါး
၄ နှစ်ဖက်၊ အစာ များကို၎င်း၊- အဦး သိမ်း သော
၅ ပါး၊စပျစ်ရည်၊ဆီ၊ သိုးမွေးကို၎င်း လှူရမည်။-အ
ကြောင်းမူကား၊သူ၎စ၍သားစဉ်မြေးဆက်တို့
သည်၊ ထာဝရဘုရားအခွင့်နှင့်အမှုတော်ကိုဖြ
စည်ဆောင်ရွက် စေခြင်း၄ှါ၊ သင်၏ဘုရားသခင်
ထာဝရ ဘုရား သည်၊ သင်၏ အမျိုး အနွယ်အ
၆ ပေါင်းတို့တွင်၊သူကိုရွေးကောက်တော်မူပြီ။-ဣ
သရေလ မြို့ရွာတို့၌ တည်းခိုသောလေဝိသားတ
စုံတယောက်သည်၊ထာဝရဘုရားရွေးကောက်
တော် မူသောအရပ်ကို ကြည်ညိုသော စိတ်အား
၇ ကြီး၍ရောက်လာလျှင်၊-ထာဝရဘုရားရှေ့တော်
၌နေရာရ သော ညီအစ်ကို လေဝိသားအပေါင်း
တို့နည်းတူ၊ သူ၏ဘုရားသခင်ထာဝရဘုရားအ
၈ ခွင့်နှင့် အမှုတော်ကို ဆောင်ရွက် ရမည်။- သူ၏
အမွေကို ရောင်း၍ ရသော ဥစ္စာမှ တပါး၊ လေဝိ
သားများတို့နှင့်အတူအညီအမျှခံရမည်။
၉ သင်၏ဘုရားသခင်ထာဝရဘုရားပေးတော်မူ
သော ပြည်သို့ သင် သည် ဝင်စား သော အခါ၊ထို
ပြည်၌နေသောလူမျိုးတို့ပြုတတ်သောစက်ဆုပ်
၁၀ ရွံ့ရှာ ဖွယ် အမှုတို့ကို ပြုခြင်းငှါ မသင်ရ။- ထင်
တို့တွင် မိမိသား၊သမီးကို မီးဖြင့် ပူဇော် သောသူ၊
ဖြစ်လတ္တံ့သော အမှုကိုကိုယ် ဉာဏ် နှင့် ဟော
ပြောသောသူ၊ကာလမေဇင်ကိုကြည့်သောသူ၊မ
၁၁ ကောင်း သော အတတ်ကို ပြုစုသောသူ၊- ပြုစား
တတ်သောသူ၊နတ်ဆိုးနှင့်ပေါင်းသောသူ၊ဗိဇ္ဇာ
အတတ် ကို ပြုစု သော သူ၊ လူ သေကို မေးမြန်း
၁၂ သောသူတစုံတယောက်မျှမရှိရ။-ထိုသို့ပြုတတ်
သောသူအပေါင်းတို့ကို ထာဝရဘုရားစက်ဆုပ်

နှံ့ရှာတော်မူ၏၊ ထို စေ့ထ်ဆုတ် နှံ့ရှာဖွယ်သောအ
မှုများထို့ ကြောင့်၊ သင်၏ ဘုရား သခင် ထာဝရ
ဘုရားသည် ထိုလူမျိုး ထို့ကို သင့်ရှေ့မှ နှင်ထုတ်
၁၃ တော်မူ၏။- သင်သည်၊ သင်၏ဘုရားသခင် ထာ
၁၄ ဝရဘုရားရှေ့တော်၌၊ စုံလင်ခြင်းရှိရမည်။- သင်
အမိုက်ရ အံ့ သော လူမျိုး ထို့ သည်၊ ကာလ ဗေဒင်
ကိုကြည့်သောသူ၊ ဖြစ်လတံ့သောအမှုကိုကိုယ်
ညာ ထ် အားဖြင့်ဟောပြော သော သူထို့စကား
ကိုနားထောင်တတ်ကြ၏၊သင်မူကား၊ထိုသို့ပြုရ
အောင်၊သင်၏ဘုရားသခင်ထာဝရဘုရားသည်
အခွင့်ပေးတော်မမူ။
၁၅ သင်၏ဘုရားသခင်ထာဝရဘုရားသည်၊ သင်
၏အမျိုး၊ သား ချင်း ထို့အထဲ၌၊ ငါနှင့်တူသောပ
ရောဖက် တပါးကို သင့်အဖို့ ပေါ်ထွန်းစေတော်
မူမည်၊ ထိုပရော ဖက်၏ စကားကို နားထောင်ရ
၁၆ မည်။-ဟောရပ် အရပ်တွင် စည်းဝေး ကြသော
နေ့၌ သင်က၊ နောက် တဖန် အကျွန်ုပ် ဘုရား သ
ခင်ထာဝရဘုရား၏စကားတော်အသံကိုမကြား
ရပါစေနှင့်၊ ထိုကြီးစွာသောမီးကို မမြင်ရပါစေ
နှင့်၊ အကျွန်ုပ် သေ မည်ကို စိုးရိမ် ပါသည် ဟု၊
သင်၏ ဘုရား သခင် ထာဝရ ဘုရား ရှေ့ တော်၌
၁၇ တောင်း ပန် သမျှ အတိုင်း၊-ထာဝရ ဘုရားက၊
၁၈ သူတို့စကားသည်လျောက်ပတ်ပေ၏၊-သူတို့အ
မျိုးသားချင်းတို့ အထဲ၌ သင်နှင့် တူသော ပရော
ဖက်တပါးကို သူတို့အဖို့ ငါပေါ်ထွန်းစေ၍၊ ထို
ပရောဖက်နှုတ်၌ ငါ စကားကို ငါအပ် သဖြင့် ငါ
မှာထား သမျှတို့ကို သူ တို့အား ဆင့်ဆို ရ လိမ့်
၁၉ မည်။- ထို ပရောဖက် သည် ငါ အခွင့် နှင့် ဟော
ပြောသော ငါ စကားတို့ကို၊အကြင်သူသည်နားမ
၂၀ ထောင်ဘဲနေအံ့၊ထိုသူကို ငါစစ်ကြောမည်။- ငါ
မမှာထားဘဲ၊ငါ အခွင့်ကိုဆောင်၍ရဲရင့်စွာဟော
ပြောသောပရောဖက်၊အခြားတပါးသောဘုရား
အခွင့်နှင့်ဟောပြောသောပရောဖက်သည်အသေ
သတ်ခြင်းကို ခံရမည်ဟု၊ငါ့အားမိန့်တော်မူ၏။-
၂၁ သင်ကထည်း၊ ထာဝရဘုရားမိန့်တော်မူသည်၊
မမူ သည်ကို ငါတို့သည် အဘယ်သို့ သိနိုင် သ
၂၂ နည်းဟုတွေးတောလျှင်၊- ပရောဖက်သည် ထာ
ဝရဘုရား၏အခွင့်ကိုဆောင်၍ဟောပြောသည်
အတိုင်း၊ အမှုမဖြစ်၊ ဟော ပြောသော စကား မ
ပြည့်စုံ လျှင်၊ ထိုစကားကို ထာဝရ ဘုရား မိန့်
တော်မမူ၊ ပရောဖက်သည်ရဲရင့်စွာဟောပြော
ပြီ၊သူ့ကိုမကြောက်ရ။

၁၉

၁ သင်၏ ဘုရားသခင် ထာဝရဘုရား ပေးတော်
မူသောပြည်၌နေသောလူမျိုးတို့ကို၊သင်၏ဘုရား
သခင် ထာဝရ ဘုရား ပယ်ဖြတ် တော် မူသဖြင့်၊
သင်သည်သူတို့အရာ၌ဝင်စား၍၊သူတို့မြို့၊သူတို့
၂ အိမ်၌ နေသော အခါ၊- သင်၏ ဘုရား သခင်ထာ
ဝရဘုရားသည်အပိုင်ပေးတော်မူသောထိုပြည်
၃ အတွင်း၌၊ မြို့သုံး မြို့ ထို့ကိုခွဲထားရမည်။- လူအ
သက်ကိုသတ်မိသောသူအပေါင်းတို့သည်ထိုမြို့
သို့ပြေးနိုင်မည် အကြောင်း၊ သင့်အမွေခံစရာ အို
သင်၏ ဘုရား သခင် ထာဝရ ဘုရား ပေး တော်မူ
သော ပြည် ကို သုံး ပိုင်း ပိုင်း၍၊ လမ်း ခရီး ကို
၄ ထည်းပြင်ဆင်ရမည်။-လူအသက်ကိုသတ်မိ၍၊
၅ ကိုယ်အသက်ချမ်းသာစေခြင်းငှါ၊ ထိုမြို့သို့ပြေး
ရသောသူ၏ အမှုဟူ မူကား၊ လူသည် ထင်းခုတ်
ခြင်းငှါ၊ အဆော်နှင့် တောသို့သွား၍၊ သစ်ပင်ကို
ခုတ်လှည်း စည်အခါ၊ ပုဆိန် သည် အရိုး ကျွတ်
၍၊ အဖော်ကို ထိသောကြောင့်၊ မိမိ အဖော်သေ
အောင် ပြုမိ သော သူနှင့်တူ၍၊ ရန်ငြိုးဖွဲ့ခြင်းမရှိ
ဘဲ မိမိအ ဖော်ကို အမှတ် တမဲ့ သတ် မိ သောသူ
သည်၊ ထိုမြို့ တစုံ တမြို့သို့ ပြေး၍ အသက် ချမ်း
၆ သာ ရလိမ့် မည်။- သို့မ ဟုတ်၊ သေစား သေဇေ
သောသူသည် စိတ်မာန် ထစည်အခါ၊ လူသတ်
ကိုလိုက်လျှက်၊ ခရီးဝေးသောကြောင့်မှီ၍သတ်
လိမ့်မည်၊ထိုသို့မသတ်သင့်၊အကြောင်းမူကား၊
ထိုသူသည်မိမိအဖော်ကို ရန်ငြိုးဖွဲ့ခြင်းမရှိသော
၇ ကြောင့်၊ အ သေ သတ် ခြင်း ကို မ ခံ ထိုက်။- ထို
ကြောင့်မြို့သုံးမြို့ကိုခွဲထားရမည်ဟု၊ငါမှာထား
၈-၁၀ ၏။- ယနေ့ ငါ မှာထား သမျှ သော ဤ ပညတ်
တော် တို့ကို ကျင့်စောင့်၍၊ သင်၏ ဘုရားသခင်
ထာဝရဘုရားကို ချစ်သောစိတ်နှင့် အစည်အမြဲ
ထမ်းတော် သို့ လိုက်လျှောင် ၎င်၊ သင်၏ဘုရားသ
ခင်ထာဝရဘုရားသည်၊သင်၏ဘိုးဘေးတို့အား
ပေးခြင်းငှါ ဂတိထားသော ပြည်ရှိသမျှကိုသင့်
အား ပေးတော် မူ၍၊ သင်၏ ဘိုး ဘေး တို့ အား
ကျိန်ဆိုသည်အတိုင်း၊ သင့်နေရာပြည်ကိုကျယ်
ဝန်းစေတော် မူ လျှင် ၎င်၊ သင်၏ ဘုရား သခင်
ထာဝရ ဘုရား သည် သင့် အမွေခံ စရာ ထို့ ပေး
တော်မူသောပြည်၌၊ အသေမခံ ထိုက်သော သူ
သည် အ သေ ခံ၍၊ လူ အ သက် ကို သတ် သော
အပြစ် သည် သင့် အ ပေါ်မှာ မ ရောက် စေ့ညီ အ
ကြောင်း၊ ယခုဆိုခဲ့ပြီးသောမြို့သုံးမြို့မှတပါးအ

ခြားသော မြို့သုံးမြို့တို့ကို ထပ်၍ ခွဲထားရမည်။
၁၁ ထနည်းကား၊ မိမိအိမ်နီးချင်းကို ရန်ငြိုးဖွဲ့သဖြင့်
ချောင်းမြောင်း၍ သေအောင်တိုက်သောသူသည်၊
ထိုမြို့ တမြို့တမြို့သို့ ပြေး၍ ရောက်သော် သည်။-
၁၂ လူနေရာမြို့၌ အသက်ကြီးသူတို့ သည် လူကိုစေ
လွှတ်၍၊ ထိုသူကိုဆောင်ခဲ့သဖြင့်၊ သေစေခြင်းငှါ
သေစားသေစေသော သူ၏ လက်၌ အပ် ထိုက်ရ
၁၃ ကြမည်။- သင်၏မျက်စိသည် သူကို မသနားရ။
သင်သည် ချမ်းသာရမည်အကြောင်း၊ လူ အသက်
သတ်ခြင်း အပြစ်ကို ဣသရေလ အမျိုး မှ ပယ်
ရှင်းရမည်။
၁၄ သင်၏ဘုရားသခင် ထာဝရဘုရား သည်သင့်
အားအပိုင်ပေးတော်မူသောပြည်မှာ အမွေခံရာ
မြေ၌၊ ရှေးလူ ဟောင်းတို့သည် စိုက်ထားနှင့်
၁၅ သောအိမ်နီးချင်း၏မြေမှတ်တိုင်ကိုမရွှေ့ရ။-လူ
သည် ပြုမိသော ဒုစရိုက်၊ ပြစ်မှားမိသော အပြစ်
တို့စစ်ကြောသောအခါ၊သက်သေခံတဦးတည်း
ရှိလျှင်၊သူ၏စကားမတည်ရ။သက်သေခံ နှစ်ဦး၊
သုံးဦး အား ဖြင့် စကားရှိသမျှ တို့သည် တည်ရ
၁၆ လိမ့်မည်။- မှန်သော သက် သေခံ တယောက်
သည်၊ လူတပါး တစုံ၌၊ မမှန်သောသက်သေ
၁၇ ကိုခံလျှင်၊- တရားတွေ့သောသူ နှစ်ယောက်တို့
သည် ထာဝရဘုရား ရှေ့တော်သို့၎င်း၊ ထိုကာလ
၌ရှိသော ယဇ်ပုရောဟိတ်၊ တရားသူကြီးရှေ့သို့
၁၈ ၎င်း လာ ရမြင့်၊- တရား သူကြီး တို့သည် ကောင်းစွာ
စစ်ကြော၍၊ ထိုသက်သေခံသောသူသည် မိမိအ
ဆော် တစုံ၌၊ မမှန် သော သက် သေ ကို ခံပြီး
၁၉ လျှင်၊- မိမိ အဆော်၌ ပြုမည် ဟုအကြံ ရှိသည်အ
တိုင်း၊ ထိုသူ၌ပြုရမည်။ ဒုစရိုက်အပြစ်ကိုသင်တို့အ
၂၀ ထဲကထိုသို့ ပယ်ရှားရမည်။- ကြွင်းသော သူတို့
သည် ထိုသိတင်း ကို ကြား၍ ကြောက်
သောကြောင့်၊ နောက်တဖန်ထိုသို့သော ဒုစရိုက်
၂၁ ကိုမပြုဘဲ နေကြလိမ့်မည်။- သင်၏ မျက်စိသည်
မသနားရ။ အသက် အတွက် အသက် ကို၎င်း၊
မျက်စိ အတွက် မျက်စိ ကို၎င်း၊ သွား အတွက်
သွားကို၎င်း၊ လက်အတွက် လက်ကို၎င်း၊ ခြေအ
တွက်ခြေကို၎င်းဒဏ်ပေးရမည်။

၂၀

၁ သင် သည် ရန် သူ တို့ကို စစ်တိုက် ခြင်းငှါ ထွက်
သွားသော အခါ၊ ကိုယ်ထက် သာ၍ များ သော
မြင်း၊ ရထား၊ လူ တို့ ကို မြင် သော် ထည်။ မ
ကြောက်နှင့်။ သင့်ကိုအဲဂုတ္တုပြည်မှ နှုတ်ဆောင်
သော သင်၏ ဘုရား သခင် ထာဝရ ဘုရား သည်
၂ သင့်အကျ်၌ရှိတော်မူ၏။- စစ်တိုက်မည် နီးသော
၃ အခါ၊ ယဇ်ပုရောဟိတ်တို့သည် ချဉ်း၍၊- ဣသ
ဣသရေလ အမျိုးသားတို့၊ ယနေ့ သင်တို့သည် စစ်
တိုက် ခြင်းငှါ ရန် သူ တို့ကို ချဉ်း ကြပြီ။ သူတို့
ကြောင့် စိတ် ပျက် ခြင်း၊ ကြောက် ရွံ့ ခြင်း၊ တုန်
၄ လှုပ် ခြင်း၊ ထိတ် လန့် ခြင်း မ ရှိ ကြ နှင့်။- အ
ကြောင်းမူကား၊ သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရားသည် ရန်သူတို့ကိုစစ်တိုက်၍၊ သင်တို့ကို
ကယ်တင် ခြင်း အလိုငှါ၊ သင်တို့ နှင့် အတူကြွ
တော်မူသည်ဟု၊ လူတို့အား ပြောဆိုရကြမည်။-
၅ မှူးတို့ကလည်း၊ အိမ်သစ်ကို ဆောက်၍၊ ဘုရား
သခင်၌ မအပ်ရသေး သော သူရှိလျှင်၊ မိမိ အိမ်
သို့ပြန်၍အပ်ပါစေ။ သို့မဟုတ်၊ စစ်တိုက်ရာ
တွင် သေ၍၊ အခြား သော သူသည် ထိုအိမ် ကို
၆ အပ်လိမ့်မည်ဟု မိုးရိမ်စရာရှိ၏။- စပျစ်ဥယျာဉ်
ကိုစိုက်၍၊ စပျစ်သီးကို မစားရ သေးသော သူရှိ
လျှင်၊ မိမိအိမ်သို့ပြန် သွားပါလေစေ။ သို့မဟုတ်၊
စစ်တိုက်ရာတွင်သေ၍၊ အခြားသောသူသည်ထို
စပျစ်သီး ကို စားလိမ့်မည်ဟု မိုးရိမ် စရာရှိ၏။-
၇ မိန်းမ နှင့် လက် ထပ် ၍ မသိမ်း ရသေး သော သူရှိ
လျှင်၊ မိမိအိမ်သို့ပြန် သွားပါလေစေ။ သို့မဟုတ်၊
စစ်တိုက်ရာတွင်သေ၍၊ အခြားသောသူသည်ထို
မိန်းမကိုသိမ်းလိမ့်မည်ဟု မိုးရိမ်စရာ ရှိသည်ဟု၊
၈ လူများတို့အား ပြောရကြမည်။- တဖန်လည်း၊
မှူးတို့က၊ ကြောက် တတ် သော သဘော ရှိ၍
စိတ်ပျက် သောသူရှိလျှင်၊ မိမိအိမ်သို့ ပြန်သွား
ပါစေ။ သို့မဟုတ်လျှင်၊ ထိုသူ စိတ် ပျက် သ
ကဲ့သို့၊ သူ၏ အဆော်တို့သည် စိတ်ပျက် ကြလိမ့်
မည်ဟု မိုးရိမ် စရာ ရှိသည်ဟု၊ လူများ တို့အား
၉ ပြောရ ကြမည်။- မှူးတို့သည် လူများ တို့အား
ထိုသို့ပြောပြီးမှ၊ တပ်မှူး တို့သည် လူများကိုစစ်
ချီစေရကြမည်။
၁၀ သင်သည် မြို့တစုံတမြို့ကို တိုက်ခြင်းငှါချဉ်း
သော အခါ၊ စစ် ငြိမ်း မည် အ ကြောင်းကို ထင်
၁၁ ကြော်ရမည်။- ထိုမြို့သည်စစ်ငြိမ်းရာစကားပြေ
ကိုပြန်ပြော၍၊ မြို့တံခါးကိုဖွင့်ထားလျှင်၊ ထိုမြို့၌
ရှိသောသူအပေါင်းတို့သည်သင့်အားအခွန်ပေး
၁၂ ၍၊ သင့်အမှုကို ထမ်းရ ကြမည်။- သို့မဟုတ်
စကားပြေမပြောဘဲသင့်ကိုစစ်တိုက်လျှင်၊ ထိုမြို့
၁၃ ကိုဝိုင်းထား၍၊- သင်၏ ဘုရား သခင် ထာဝရ
ဘုရားသည်သင့်လက်၌အပ်တော်မူသောအခါ

ဝေးသော်ငြား မှ သူ တို့ကို ထား နှင့် ထုတ် ကြ ရ
၁၅ မည်။–မိန်းမ၊ သူငယ်၊ တိရစ္ဆာန်အစရှိသော၊ မြို့၌
တွေ့သောဥစ္စာရှိသမျှကို ကိုယ်တို့သိမ်း၍၊ သင်
၏ဘုရားသခင်ထာဝရဘုရား ပေးတော်မူသော၊
သင်၏ရန်သူထံတွင် ရရသောဥစ္စာကိုစားရမည်။–
၁၆ ဤလူမျိုးနေသော မြို့မှတပါး၊ သင်နှင့်ဝေးသော
၁၆ မြို့ရှိသမျှတို့အားထိုသို့ပြုရမည်။– သင်၏ဘုရား
သခင် ထာဝရ ဘုရားသည် သင့်အားအမွေခံစရာဘို့၊
ဤလူ မျိုးနေရာမြို့တို့၌၊ အသက်ရှူသောလူ တစ္ဆ
တိ တစုံ တ ယောက်ကိုမျှ အသက် မရှင်စေရ။–
၁၇ ဟိတ္တိလူ၊ အာမောရိလူ၊ ခါနနိလူ၊ ဖေရဇိလူ၊ဟိ
၁၈ ဝိလူ၊ ယေဗုသိ လူတို့သည် မိမိတို့ ဘုရား များနှ
ပြုသော စက်ဆုပ် ရွံရှာဘွယ်အမှုတို့ကို သင့်အား
သွန်သင်၍၊သင်သည်သင်၏ဘုရားသခင်ထာဝရ
ဘုရားကိုမပြစ်မှားမည်အကြောင်း၊သင်၏ဘုရား
သခင် ထာဝရဘုရား မှာ ထား တော် မူ သည်အ
တိုင်း၊ ထိုလူမျိုးအပေါင်းတို့ကိုရှင်းရှင်းဖျက်ဆီး
၁၉ ရမည်။–သင်သည်မြို့တစုံတမြို့ကိုတိုက်ယူခြင်း
ငှါ ကြာမြင့်စွာ ဝိုင်းထားလျှင်၊ သစ်ပင်များကိုမ
ခုတ်မဖြတ်ရ။ပြည့်ပေါက်သော အပင်တို့သည်
လူအသက်မွေးဘို့ရာဖြစ်သောကြောင့်၊အသီးကို
သာစားရမည်။ မြို့ကိုဝိုင်းထားရာအမှုကိုဆောင်
၂၀ ၍၊အပင်ကိုမဖျက်ဆီးရ။–သို့ရာတွင်၊မစားရသော
သစ်ပင် တို့ကို ခုတ်ဖြတ်၍၊ သင်နှင့် စစ် တိုက်
သောမြို့ကိုမအောင်မြင်မှီတိုင်အောင်၊ စစ်တိုက်စရာ
အမှုအရာတို့ကိုဆောက်လုပ်ရသောအခွင့်ရှိ၏။

၂၁

၁ သင်၏ ဘုရားသခင် ထာဝရဘုရား အမွေပေး
တော်မူသောပြည်တွင်၊ လွင်ပြင်သောအရပ်၌
လူအသေ ကောင် ရှိသည်ကို တွေ့၍၊ အဘယ်သူ
၂ သတ်သည်ကို မသိလျှင်၊– သင်၌ အသက်ကြီး
သူ၊ တရား သူကြီး တို့သည် ထွက်၍၊ ပတ် ဝန်း
ကျင်မြို့ရွာများတိုင်အောင်တိုင်းထွာရကြမည်။–
၃ အသေ ကောင် နှင့် အနီးဆုံးသော မြို့၌ အသက်
ကြီးသူတို့သည်ထမ်းပိုးတင်ခြင်း၊ စေခိုင်းခြင်း
တို့ မပြု ရသေး သော နွား သငယ် ကို ယူ၍၊–
၄ ထယ်မထိုးဘဲ၊ မျိုးစေ့ မကြဲ နိုင်အောင် ရေ မပြတ်
သော ချောင်း သို့ ဆောင် သွား၍၊ ထို ချောင်း၌
၅ နွား သငယ်ပင်းကို ဖြတ် ပြီးမှ၊– သင်၏ ဘုရားသ
ခင်ထာဝရဘုရား အမှုတော်ကို ဆောင် ရွက်စေ
ခြင်းငှါ၎င်း၊ ထာ ဝရ ဘုရား အညွှန့် နှင့် ကောင်း
ကြီး ပေးစေ ခြင်းငှါ၎င်း ရွေးကောက် တော် မူသော
လေဝိ သား ယဇ် ပုရော ဟိတ် တို့သည် ချဉ်း၍
တရားတွေ့ခြင်း၊ အမှု ရိုက်ပုတ်ခြင်း အမှု ရှိသမျှ
၆ တို့ကိုစီရင် ဆုံးဖြတ်ရကြမည်။– အသေကောင်
နှင့် အနီးဆုံး သော မြို့သား၊ အသက် ကြီး သူအ
ပေါင်းတို့သည်၊ ထိုချောင်းမှာ လည်ပင်း ဖြတ်ပြီး
သော နွား ၏ အ ပေါ် မှာ မိ မိ တို့ လက် ကို ဆေး
၇ လျှက်၊–ငါတို့လက်သည် ဤအသွေးကိုမသွန်း၊
၈ ငါတို့ မျက် စိသည် မ မြင်။– အို ထာ ဝရ ဘုရား၊
ရွေးနှုတ်တော်မူသောကိုယ်တော်၏လူ ဣသရေလအ
မျိုးကိုသနားတော်မူပါ။မသေထိုက်သောသူကို
သတ်သော အပြစ်သည်၊ ကိုယ်တော်၏ လူ ဣသ
ရေလ အမျိုးအပေါ်သို့ရောက်စေတော်မမူပါနှင့်
ဟုမြွက် ဆိုရ ကြ မည်။ သို့ ပြု လျှင်၊ အသက် ကို
၉ သတ် သော အပြစ် လွှတ် ထိမ့် မည်။– ထိုသို့ သင်
သည်၊ ထာဝရဘုရား ရှေ့ တော်၌ ကောင်းသော
အမှုကိုပြု သော အခါ၊ မသေထိုက် သောသူ၏ အ
သွေးကိုပယ်ရှင်းရလိမ့်မည်။
၁၀ သင်သည်ရန်သူတို့ကိုစစ်တိုက် သွား၍၊ သင်
၏ဘုရားသခင်ထာဝရဘုရားသည်၊ သူတို့ကိုသင့်
လက်၌ အပ် တော် မူ၍ ဖမ်း၍၊ သင် သည် ဖမ်း ယူ
၁၁ သောအခါ၊– ဖမ်းယူသောသူတို့တွင် အဆင်းလှ
သောမိန်းမကို မြင်၍ စုံဖက်ခြင်းငှါ အလိုရှိလျှင်၊–
၁၂ သင့် အိမ် သို့ သူ ကို ခေါ် သွား၍၊ သူ သည် ဦးဆံ
ရိတ်ခြင်း၊ လက်သည်းလှီးဖြတ်ခြင်းကိုပြုလျှက်၊–
၁၃ ဖမ်းယူရာအဝတ်ကိုချွတ်ပယ်၍၊တလပတ်လုံး
မိဘ တို့ကို မြည် တမ်း လျှက်၊ သင့် အိမ်၌ နေပြီး
သောနောက်၊ သင်သည်သူနှင့်စုံဖက်၍သူသည်
၁၄ သင်၏မယားဖြစ်မည်။–နောက်တနေ့သူကိုမနှစ်
သက်လျှင်၊ သူ အလို အလျောက် သွားသော အခွင့်ကို
ပေးရမည်။ သူကိုရှုတ်ချသောကြောင့်၊ ငွေနှင့်မ
ရောင်းရ၊ ကျွန်အရာ၌ မထားရ။
၁၅ သင် ချစ် သော မယား၊ မုန်းသော မယား နှင့်
သောက် ထိုသည်သားကိုဖွား၍၊အဦးဖွားသော
သားသည် မုန်းသော မယား၏ သားဖြစ်လျှင်၊–
၁၆ ထိုသူသည်မိမိအမွေဥစ္စာကိုဝေသောအခါ၊မုန်း
သော မယား၏ သား ဦးကို နှိမ့်ချ၍၊ ချစ် သောမ
ယား၏သားကိုသားဦးအရာ၌ မချီးမြှောက်ရ။–
၁၇ မုန်းသောမယား၏သားသည် သားဦးဖြစ်သည်
ကိုဝန် ခံ၍၊ နှစ် ဆ သော အမွေ ဥစ္စာကို သူ့အား
ပေးရမည်။အကြောင်းမူကား၊ထိုသားသည်အ
ဖ၏ ခွန်အားအစအဦးဖြစ်၏၊ သားဦး အရိပ်အ
ရာ နှင့် ဆိုင်ပေ၏။

၁၈ အဖ၌ဆိုးသောသား၊ ခက်ထန်သောသဘော
ရှိ၍ မိဘစကားကိုနားမထောင်သောသား၊ မိဘ
တို့ဆုံးမသော်သော်၊ ဆုံးမခြင်းကိုမခံသောသားရှိ
၁၉ လျှင်၊-မိဘတို့သည်ထိုသားကိုဆွဲကိုင်၍၊မြို့၌အ
သက်ကြီးသူတို့ရှိရာ မြို့တံခါး ဝသို့ ဆောင်ခဲ့ပြီး
၂၀ လျှင်၊-အကျွန်ုပ်တို့သားသည်ဆိုးသောသူ၊ခက်
ထန်သော သဘောရှိ၍၊ အကျွန်ုပ် တို့ စကား ကို
နားမထောင်သောသူဖြစ်ပါ၏။ စားကျူး သော
သူ၊ သောက် ကျူးသော သူ ဖြစ်ပါ၏ဟု၊ မြို့၌ အ
၂၁ သက်ကြီးသူတို့အားလျှောက် ဆိုရမည်။-မြို့သား
ယောကျ်ားအပေါင်းတို့သည်ထိုသားကိုကျောက်
ခဲနှင့်ပြစ်၍အသေသတ်ရကြမည်။ထိုသို့သင်တို့
တွင် ဒုစရိုက် အပြစ် ကို ပယ်ရှား သဖြင့်၊ ဣ သ
ရေလ အမျိုးသား အပေါင်းတို့သည် ထိုသိတင်း
ကိုကြား၍ကြောက်ရွံ့ခြင်းရှိကြလိမ့်မည်။
၂၂ သေထိုက်သော အပြစ်ရှိသော သူကို သစ်တိုင်
၂၃ ၌ဆွဲ၍သတ်လျှင်၊-အသေကောင်ကိုသစ်တိုင်၌
တညည့်လုံးမထားရ။ ထိုနေ့ချင်းတွင်မြေ၌ဆက်
ဆက်မြှုပ်ရမည်။ သစ်တိုင်၌ဆွဲထားခြင်းကိုခံရ
သောသူသည်၊ ကျိန်ခြင်းကိုခံရသော သူဖြစ်၏။
သင်၏ဘုရားသခင် ထာဝရဘုရားသည် သင့်အ
မွေခံစရာအဖို့ ပေးတော်မူသော ပြည်သည် မညစ်
ညူးစေမည်အကြောင်း၊ ထိုသို့ပြုရမည်။

၂၂

၁ သင့်ညီအစ်ကို၏သိုးနွားသည်လမ်းလွဲသည်
ကိုကြည့်၍ မနေရ။ ညီအစ်ကို ထံသို့ ဆက်ဆက်
၂ ပြန်ပို့ရမည်။- ညီအစ်ကို ဝေးသော်၎င်း၊ သူကိုမ
သိသော်၎င်း၊ထိုသိုးနွားကိုကိုယ်အိမ်သို့ဆောင်
ခဲ့ရမည်။ညီအစ်ကိုသဉ်မရှာ၊ သူ၌မအပ်မှီတိုင်
၃ အောင် ကိုယ်အိမ်၌ ထားရမည်။- မြည်းဖြစ်စေ၊ အ
ဝတ်ဖြစ်စေ၊ ညီအစ်ကို၏ဥစ္စာတစုံ တခုပျောက်
၍သင်တွေ့မိလျှင်၊ကြည့်၍မနေဘဲ၊ထိုအတူပြုရ
၄ မည်။-ညီအစ်ကို၏မြည်းနွားသည်လမ်း၌လဲလျက်
ရှိသည်ကိုကြည့်၍မနေရ။ညီအစ်ကိုနှင့် ဝိုင်း၍
ဆက်ဆက်မစရမည်။
၅ မိန်းမသည် ယောကျ်ား အဝတ် ကို မ ဝတ် ရ။
ယောကျ်ားသည်လည်း မိန်းမအဝတ်ကို မဝတ်ရ။
ထိုသို့ဝတ်သောသူရှိသမျှတို့ကို သင်၏ဘုရားသ
ခင်ထာဝရ ဘုရားသည် စက်ဆုပ် ရွံရှာ တော်မူ
၆ ၏။-သစ်ပင်ပေါ်၊ မြေပေါ်မှာငှက်သိုက်၌ငှက်မ
သည် အဥများ၊ သားငယ်များ၊ကို ဝပ်လျက် နေ
သည်ကိုတွေ့လျှင်၊သားငယ်တို့နှင့်အတူအမိကို
၇ မယူရ။-သင်သည် ကောင်းစား၍ အသက်တာ
ရှည်မည်အကြောင်း၊ သားငယ်တို့ကို သိမ်းယူ
၈ လျှင်လည်း၊အမိကို လွှတ်လိုက်ရမည်။-လူသစ်
အိမ်မိုးပေါ်ကကျ၍၊ လူအသက်ကို သတ် သော
အပြစ်မရောက်မည်အကြောင်း၊အိမ်အသစ်ကို
ဆောက်သော အခါ၊ အမိုး နားပတ် လည် ၌ အ
၉ သီးအတားကိုလုပ်ရမည်။- စပျစ်ဥယျာဉ်၌ခြား
နားသောမျိုးစေ့ တို့ကိုရောနှော၍မကြဲရ။ ထိုသို့
ကြဲ လျှင်၊ မျိုးစေ့ အသီး၊ စပျစ်ပင် အသီး နှစ် ပါး
၁၀ စလုံးပျက်လိမ့်မည်။-နွားနှင့်မြည်းကိုဖက်၍လယ်
၁၁ မထွန် ရ။- ဝါ နှင့် သိုးမွေး ကို ရော နှော ၍ ရက်
သောအဝတ်ကိုမဝတ်ရ။- သင်ခြုံသောအဝတ်
စွန်လေးဖက်၌ပန်၊ပွားတို့ကိုဆွဲရမည်။
၁၃ လူသည် မယားနှင့် ထိမ်းမြားဆက်ဆံ ပြီးမှ၊
၁၄ တဖန်ထိုမိန်းမကိုမုန်း၍၊- ငါသည်ဤမိန်းမနှင့် ထိမ်း
မြားဆက် ဆံသော အခါ၊ ကညာ မစစ် ကြောင်း
ကို သိရပြီဟု၊ ထိုမိန်းမ၌ ကဲ့ရဲ့စရာ အကြောင်းကို
၁၅ ပြု၍၊ သူ့အသရေကိုဖျက်လျှင်၊-ထိုမိန်းမ၏မိဘတို့
သည် ကညာ၏ လက္ခဏာ သက်သေကို ဆောင်
လျက်၊ မြို့၌အသက်ကြီးသူတို့ရှိရာမြို့တံခါးဝသို့
၁၆ သွား၍၊-ထိုမိန်းမ၏အဖက၊ အကျွန်ုပ်သမီးကိုဤလူ
၌အကျွန်ုပ် ပေးစားပါပြီ။ သူသည် အကျွန်ုပ်သမီး
၁၇ ကိုမုန်း၍၊- သင်၏သမီးသည်ကညာမစစ်ကြောင်း
ကိုငါတွေ့ပြီဟု ဆိုလျက်၊ ကဲ့ရဲ့ စရာ အကြောင်း
ကိုပြုပါ၏။ သို့ရာ တွင်၊ ဤသည် ကား၊ အကျွန်ုပ်
သမီး၏ ကညာ လက္ခဏာ သက်သေ ဖြစ်ပါ၏ဟု၊
အသက်ကြီးသူ တို့အား လျှောက် ဆို လျက်၊ ထို
၁၈ အဝတ်ကို သူတို့ရှေ့မှာ ဖြန့်၍ပြရမည်။- ထိုအ
ခါ မြို့၌အသက် ကြီး သူတို့ သည် ထို လူကို ယူ၍
၁၉ ရိုက်ပြီးမှ၊-ငွေတရာသောကိုလျော်စေ၍၊မိန်းမ၏အ
ဖအား ပေးရမည်။ အကြောင်းမူကား၊ ဣသရေ
လအမျိုးကညာ၏အသရေကိုထိုသူဖျက်လေပြီ။
ထိုမိန်းမသည်သူ၏မယားဖြစ်ရမည်။ တသက်လုံး
၂၀ ထိုမိန်းမနှင့် မကွာရ။- သို့မဟုတ်၊ ထင် စကားမှန်
၍၊ ထို မိန်းမ ၌ ကညာ လက္ခ ဏာ သက် သေ မရှိ
၂၁ လျှင်၊- မြို့သားယောကျ်ားတို့သည် ထိုမိန်းမကိုအ
ဖအိမ် တံခါးသို့ ဆောင်ခဲ့ ပြီးလျှင်၊ ကျောက် ခဲ
နှင့်ပြစ်၍ အသေသတ်ရကြမည်။ အကြောင်းမူ
ကား၊သူသည်အဖအိမ်၌မတရားသောမေထုန်သို့
လိုက်၍၊ ဣသရေလ အမျိုး၌ မိုက်မဲသော အမှု
ကိုပြုလေပြီ။ ထိုသို့သင်တို့တွင် ဒုစရိုက် အပြစ်
ကိုပယ်ရှားရကြမည်။

၂၂ ထိမ်းမြားသော မိန်းမနှင့် ယောက်ျား၊ သော သောက်ျား
ထင်ရှားသည် ကို တွေ့ မိလျှင်၊ ထိုယောက်ျား နှင့်
မိန်းမနှစ်ယောက်တို့သည် အသေသတ်ခြင်းကိုခံရ
မည်၊ ထိုသို့ ဣ သရေလ အပြစ်ကိုဣသရေလ အမျိုး
၂၃ ၌ပယ်ရှားရမည်။ အပျိုကညာကို ယောက်ျား
နှင့် ထိမ်းမြား စေ့စပ် နှင်းပြီးမှ၊ အခြား သော
ယောက်ျားသည် မြို့ထဲမှာတွေ့၍ ထင်ရှားလျှင်၊-
၂၄ ထိုသူ နှစ်ယောက် တို့ ကို မြို့ တံ ခါး ဝ သို့ ထုတ်
ဆောင် ပြီး လျှင်၊ ကျောက်ခဲ နှင့် ပစ်၍ အသေ
သတ်ရကြမည်၊ မိန်းမသည်မြို့ထဲမှာရှိလျက်ပင်၊ မ
အော်မဟစ်သောကြောင့်၎င်း၊ယောက်ျားလည်း
သူ့မယားကို ရှုတ်ချ သောကြောင့်၎င်း၊ ထိုသူနှစ်
ယောက်တို့သည်အသေသတ်ခြင်းကိုခံရမည်၊
ထိုသို့ သင်တို့တွင် ဒုစရိုက် အပြစ်ကို ပယ်ရှားရ
၂၅ ကြမည်။ အပျို ကို ယောက်ျား နှင့် ထိမ်း မြား
စေ့စပ် နှင်း ပြီး မှ၊ အ ခြား သော ယော က်ျား
သည် တော ၌ တွေ့၍၊ အနိုင် အ ထက် ပြု လျှင်၊
ထိုယောက်ျား တ ယောက်တည်းကိုသာ အသေ
၂၆ သတ်ရမည်။ သေထိုက် သော အပြစ် မရှိသော
၂၇ ထို မိန်းမကို သင် ထည့် အဘယ်သို့ မျှ မ ပြုရ၊ အ
ကြောင်းမူကား၊ယောက်ျားသည် ထိုမိန်းမကိုတော
၌တွေ့၍မိန်းမ အော်ဟစ်သော်လည်း၊ ကူညီသော
သူ မရှိသောကြောင့်၊ထို အမှု သည် လူ ပွင့်း တ
ယောက်ကိုတယောက်ရန်ပြု၍ သတ်သောအမှု
၂၈ နှင့်တူ၏။-ယောက်ျား နှင့် မထိမ်းမြား မစေ့စပ်
နှင်း သေး သော အ ပျို ကညာကို အ ခြား သော
ယောက်ျားသည်တွေ့၍ ကိုင်ဆွဲထင်ရှားသည်ကို
၂၉ တွေ့မိလျှင်၊-ထိုယောက်ျားသည်မိန်းမ၏အဘအား
ငွေငါးဆယ်ကိုပေးရမည်၊ထိုမိန်းမသည်လည်း
သူ၏ မယား ဖြစ်ရ မည်၊ သူ ကို ရှုတ် ချ သော
၃၀ ကြောင့်၊တသက်လုံးမကွာရ။- လူသည်မိမိအဘ
နှင့်ဆိုင်သောအဘ၏မယားကိုမထိမ်းမြားရ။

၂၃

၁ ယောက်ျား၏ အစေ့ ထိခိုက်သော စေ့ထိ ရှိ
သော ယော က်ျား သည် ထာ ဝရ ဘု ရား ၏
၂ ပရိသတ်တော်၌ အပေါင်းအဝင်မဖြစ်ရ။- မျောက်
မယား၌ ရသော သား သည် ထာဝရ ဘုရား၏
ပရိသတ် တော်၌ အပေါင်း အဝင် မ ဖြစ်ရ၊ ဆယ်
၃ ဆက် မြောက် အောင် မဝင် ရ။- အမ္မုန် အမျိုး
သား၊မောဘအမျိုးသားသည်လည်း ထာဝရ
ဘုရား၏ပရိသတ်တော်၌ အပေါင်းအဝင် မဖြစ်ရ၊
ထာဝရအစဉ်မကုန်၊ ဆယ်ဆက်မြောက်အောင်
၄ မဝင်ရ။-အကြောင်းမူကား၊ သင်တို့သည်အဲဂုတ္တု
ပြည်မှထွက်လာသောအခါ၊သူတို့သည်မုန့်နှင့်
ရေကို ဆောင်၍ ခရီး ဦး ကြို မလာကြ၊ သင့် ကို
ကျိန်ဆဲစေခြင်းငှါ၊ မေသောပေါတာမိပြည်ပေ
ထော်မြို့၌ နေသော ဗောရ သား ဗာလမ်ကို ငှါး
၅ ကြ၏။-သို့ရာတွင်၊ သင်၏ ဘုရား သခင် ထာဝရ
ဘုရားသည်ဗာလမ်စကားကိုနားမထောင်၊သင့်
ကို ချစ် သော ကြောင့် ကျိန် ဆဲ ခြင်း ကို သင် ၌
၆ ကောင်းကြီးမင်္ဂလာဖြစ်စေတော်မူ၏။-သင်သည်
သူတို့ ချမ်းသာ၊ သူတို့စည်း စိမ်ကို တသက်လုံး
၇ အစည် မပြုရ။- ဧဒုံ အမျိုး သားကို မုန်းသော မ
ရှုရ၊ သူသည်သင်၏ညီအစ်ကိုဖြစ်၏။ အဲဂုတ္တု
အမျိုးသား ကိုလည်း မုန်းရ၊ သူ၏ပြည်၌သင်
၈ သည်ဧည့်သည်ဖြစ်ပြီ။-သူတို့အမျိုး၌ တတိယအဆက်
သုံး ဆက် မြောက် မှ သား၊ ထာ ဝ ရ ဘု ရား ၏
ပရိသတ်တော်၌အပေါင်းအဝင် ဖြစ်ရသောအခွင့်
ရှိ၏။
၉ ရန်သူတို့ကိုစစ်ထိုးသွားသောအခါ၊မတရား
၁၀ သော အမှု ရှိ သ မျှ ကို ရှောင် သော်။- ညဉ့် အ
မှိန်၌ ရောက်တတ် သော၊ မစင် ကြယ် သော အ
ကြောင်းကြောင့် မစင်ကြယ်သောသူသည် သင်
တို့တွင်ရှိလျှင်၊သူသည်တပ်ပြင်သို့ထွက်ရမည်၊
၁၁ တပ်ထဲသို့ မဝင်ရ။- ညနေချုပ်သော အခါ ရေ
၁၂ ချိုး၍၊ နေဝင် ပြီးမှ၊ တပ်ထဲသို့ ဝင်ရမည်။- ထင်
ကျင်ကြီး စွန့်ရ ရာ အရပ် သည် တပ် ပြင် ၌ ရှိရ
၁၃ မည်၊-တပ်ပြင်သို့ထွက်၍ စွန့်သောအခါ၊ကိုယ်
၌ပါသောသစ်သားတူးရွင်းနှင့်မြေ၌ တူးရမည်။
၁၄ နောက်တဖန်လှည့်၍မစင်ကိုဖုံးအုပ်ရမည်။-အ
ကြောင်း မူ ကား၊ သင် ၏ ဘုရား သခင် ထာဝရ
ဘုရား သည် သင့်ကို ကယ်တင်၍၊ ရန်သူတို့ကို
သင့်လက်၌အပ်ခြင်းငှါ၊သင်၏တပ်ထဲမှာသွား
လာ တော် မူ၏၊ ထို ကြောင့်၊ သင့် အထဲ၌ မစင်
ကြယ် သော အ ရာ တစုံ တ ခု ကို မြင်၍၊ သင်မှ
ရှောင်သွားတော်မမူမည်အကြောင်း၊သင်၏တပ်
သည်သန့်ရှင်းရမည်။
၁၅ မိမိသခင်ထံကပြေး၍သင့်ထံသို့ရောက်သော
၁၆ ကျွန်ကိုသခင်၌ မအပ်ရ၊ ထိုကျွန်သည် အလို
အလျောက်နေလိုသောအရပ်၊သင့်နေရာမြို့တမြို့
တမြို့၌ သင့်ထံမှာနေရသောအခွင့်ရှိ၏၊ သူ့ကိုမ
၁၇ ညှဉ်းဆဲရ။-ဣသရေလအမျိုးသမီးတို့တွင်ပြည်
တန်ဆာ မရှိရ၊ ဣသရေလ အမျိုး သား တို့ တွင်
ယောက်ျားအလိုသို့ လိုက်တတ်သော မိန်းမလျှာမ

၁၈ ရှိရ။- ပြည်တန်ဆာ လုပ်၍ ရသောငွေ၊ ခွေးကို
ရောင်း၍ရသောငွေကိုသစ္စာဂတိပြေစေခြင်းငှါ၊
သင်၏ ဘုရားသခင် ထာဝရဘုရား၏ အိမ်တော်
သို့မသွင်းရ။ ထိုသို့ သောငွေကို စက်ဆုပ် ရွံရှာ
တော်မူ၏။
၁၉ သင်၏အမျိုးသားချင်း၌အတိုးယူ၍၊ ငွေ၊စား
၂၀ ရော၊ အလုံးအဆောင်ကို မချေးမငှါးရ။-တပါး
အမျိုးသား၌အတိုးယူ၍ချေးငှါးရ၏။ သင်သွား
၍ဝင်စားသောပြည်တွင်သင်ပြုလေရာရာ၌၊ သင်
၏ဘုရားသခင် ထာဝရဘုရားသည်ကောင်းကြီး
ပေးတော်မူမည် အကြောင်း၊ အမျိုး သားချင်း၌
အတိုးယူ၍ချေးငှါးခြင်းကိုရှောင်ရမည်။
၂၁ သင်၏ဘုရားသခင် ထာဝရဘုရားအားသစ္စာ
ဂတိထားလျှင်၊ ထားသည်အတိုင်း မပြုဘဲမနေ
ရ။ သင်၏ ဘုရားသခင်ထာဝရဘုရားသည်ကြန်
အစွန်တောင်းတော်မူမည်။ သင်သည်မပြုဘဲနေ
၂၂ လျှင်၊ အပြစ် ရောက် လိမ့်မည်။- သစ္စာ ဂတိ မ
၂၃ ထားဘဲ နေလျှင်၊ အပြစ် မ ရောက်။- သင် သည်
သင်၏ဘုရားသခင် ထာဝရဘုရားအားကိုယ်အ
လိုအလျောက် သစ္စာ ဂတိထား၍၊ ကိုယ်နှုတ်
နှင့် မြွက်ဆိုသော စကားကို တည်စေ၍၊ ဂတိရှိ
သည်အတိုင်းပြုရမည်။
၂၄ ❧ သင်သည်အိမ်နီးချင်း၏စပျစ်ဥယျာဉ်သို့ဝင်
သောအခါ၊ အလိုအလျောက် စပျစ်သီးကိုဝစွာ
၂၅ စားရသော်လည်း၊ခွက်ထဲ၌မထည့်ရ။-အိမ်နီးချင်း၏
စပါးပင်ထဲသို့ဝင်သောအခါ၊စပါးနှံကိုလက်
နှင့်ဆွတ်ရသော်လည်း၊တံစဉ်နှင့်မရိတ်ရ။

## ၂၄

၁ တစုံ တယောက် သော သူ သည် မယား နှင့်
ထိမ်းမြား၍ဆက်ဆံပြီးမှ၊တစုံတခုအပြစ်တင်စရာ
အကြောင်းရှိ သောကြောင့်၊ စိတ် မ တွေ့ လျှင်၊
ပြတ်စာကို ရေး၍၊ သူ၌ အပ် ပေး၍ အိမ်မှ ထုတ်
၂ လိုက် ရ မည်။- ထို မိန်း မ သည် ထို အိမ်မှ ထွက်
သွားသောနောက်၊အခြားသောသူ၏မယားဖြစ်
၃ ရသောအခွင့်ရှိ၏။- နောက်ထပ် နေသော သူသည်လည်း
ထိုသူကို ရွံလျှင်၊ ပြတ်စာကို ရေး၍၊ သူ၌
အပ်ပေး၍အိမ်မှထုတ်သည်ဖြစ်စေ၊ထိုသူသေ
၄ သည် ဖြစ် စေ၊- အ ရင် ထုတ် လိုက် သော ယောက်
ျားသည် ညစ်ညူးခြင်း ရှိသော ထိုမိန်းမကို
နောက်တဖန်မသိမ်းရ။ ထာဝရဘုရား ရှေ့တော်
၌စက်ဆုပ် ရွံဖွယ်သော အမှုဖြစ်၏။ သင်၏ ဘုရား
သခင် ထာဝရဘုရားသည် သင့်အားအမွေခံစရာအို

ပေး တော် မူ သော ပြည်၌ အပြစ်မရောက်စေရ။
၅ အိမ်ထောင်ဖက်ပြုစ ရှိသောသူသည် စစ်တိုက်ခြင်း
မသွားရ။ မင်းအမှုကိုမဆောင်ရ။ တနှစ်ပတ်လုံး
ကိုယ်အိမ်၌ အလွတ်နေ၍၊ မယားကို ကျေးဇူး
ပြုရမည်။
၆ ကြိတ်ဆုံ အပေါ်ကျောက် ပြား ကို ဖြစ် စေ၊
အောက် ကျောက်ပြားကိုဖြစ်စေ၊ အထည်သူမှ
အပေါင်မယူရ။ ထိုသို့ယူလျှင်၊ လူအသက်ကို အ
၇ ပေါင်ယူသည်နှင့်တူ၏။-လူသည်မိမိအမျိုးသား
ချင်းဖြစ်သော ဣသရေလ အမျိုး သား ကို ခိုး၍၊
ကျွန်အရာ၌ထားသည်ဖြစ်စေ၊ရောင်းသည် ဖြစ်
စေ၊ထိုသူခိုးကိုတွေ့မိလျှင် အသေ သတ် ရမည်။
သင် တို့တွင် ဒုစရိုက်အပြစ်ကို ထိုသို့ပယ်ရှားရ
ကြမည်။
၈ ❧ နူနာဘေးရောက်သောအခါ၊လေဝိအမျိုးသားယဇ်
ပုရောဟိတ် တို့သွန်သင်သမျှအတိုင်း၊ သတိပြု
၍ စေ့စေ့ စောင့် ရှောက် လော့။ သူတို့ ကို ငါမှာ
၉ ထားသည် အတိုင်း ကျင့် စောင့် ကြလော့။-သင်
တို့သည် အဲဂုတ္တု ပြည်မှ ထွက်၍ ခရီး သွားကြ
စဉ်တွင်၊ သင်တို့၏ ဘုရားသခင် ထာဝရဘုရား
သည်၊ မိရိအံ၌ ပြုတော်မူသောအမှုကို အောက်
မေ့ကြလော့။
၁၀ သင်သည် အမျိုးသားချင်း၌ တစုံတခုကိုချေး
ငှါးလျှင်၊ အပေါင်ထားသောဥစ္စာကိုယူခြင်းငှါ၊
၁၁ သူ့အိမ်ထဲသို့မဝင်ရ။-သင်သည်အိမ်ပြင်မှာရပ်
နေ၍၊ ထိုသူသည် အပေါင် ထား သော ဥစ္စာကို
၁၂ သင့် ရှိရာ အိမ် ပြင်သို့ ဆောင် ခဲ့ရ မည်။- ထိုသူ
သည်ဆင်းရဲလျှင်၊ ပေါင်၍ ထားသော ဥစ္စာကို
၁၃ ဖြန့်မအိပ်ဘဲညဉ့်ကိုမလွန်စေရ။- သူသည်မိမိ
အဝတ်ကို ဝတ်ချုံ လျက် အိပ် ပျော်၍၊ သင့်ကို
ကောင်း ကြီး ပေး မည် အ ကြောင်း၊ သူ ပေါင်၍
ထားသော ဥစ္စာကို နေဝင်လျှင်၊ ဆက်ဆက်ပြန်
အပ် ရမည်။ ထိုသို့ ပြု သော အမှု သည်၊ သင်၏
ဘုရား သခင် ထာဝ ရဘုရား ရှေ့ တော်၌ ဖြောင့်
၁၄ မတ်သော အမှုဖြစ်လိမ့်မည်။-အမျိုး သား ချင်း
ဖြစ်စေ၊ သင့်နေရာ မြို့ရွာတို့၌ တည်းခိုသောတ
ပါးအမျိုးသားဖြစ်စေ၊ဆင်းရဲငတ်မွတ်သောသူ
၁၅ ငှါးကိုမညှဉ်းဆဲရ။- နေ့စဉ်မပြတ်သူ့အခကို
ပေးရမည်။ မပေးဘဲ၊ နေမဝင် စေနှင့်။ သူသည်
ဆင်းရဲသောကြောင့်၊ရထိုက်သောအခကိုသည်း
မိတ်စွဲလမ်းလျှက်ရှိလိမ့်မည်။မပေးဘဲနေလျှင်၊
သူသည်သင့်ကိုအပြစ်တင်၍၊ ထာဝရဘုရားကို

ထော်တပ်သဖြင့်သင်၌ အပြစ်ရောက်မည်ထုမိုး
ရိပ်ခုရာရှိ၏။
၁၆ ဘဝ သည် သား၏ အပြစ် ကြောင့် ရှင်၊ သား
သည်အဘ၏ အပြစ်ကြောင့်ရှင်၊ အသေမခံရ။လူ
တိုင်း မိမိ အပြစ်ကြောင့်သာ အသေ ခံရ မည်။-
၁၇ တရားတွေ့ပြင်း အမှုမှာ၊ တပါးအမျိုးသား နှင့်မိ
ထမရှိသောသူကို အရှုံးမပေးရ။ မုဆိုးမအဝတ်
၁၈ ကိုအပေါင်မယူရ။- သင်သည် အဲဂုတ္တုပြည်၌
ကျွန်ခံ ခဲ့ဘူးကြောင်းကိုရှင်၊ သင်၏ ဘုရားသခင်
ထာဝရဘုရား သည် သင့်ကို ထိုပြည်မှ ရွေးနှုတ်
တော် မူကြောင်း ကို ရှင် အောင်း အောက်မေ့ရမည်။ ထို
ကြောင့် ဤပညတ်ကို ငါထား၏။
၁၉ သင်သည်ကိုယ်လယ်၌ အသီးအနှံ ကို ရိတ်
သောအခါ၊ မေ့လျော့သောကောက်လှိုင်းကိုပြန်
၍ မယူရ။သင်ပြုလေရာရာ၌ သင်၏ဘုရားသခင်
ထာဝရဘုရား သည် သင့်ကို ကောင်းကြီး ပေး
တော်မူမည်အကြောင်း။ ထိုကောက်လှိုင်းကိုတ
ပါး အမျိုးသား၊ မိဘ မရှိ သောသူ၊ မုဆိုး မအဖို့
၂၀ ထားရမည်။- သင်၏သံလွင်သီးကိုခြွေသော
အခါ၊ ကျန်ကြွင်းသောအသီးကို ပြန်၍ မခြွေမ
ခြွေရ။ တပါးအမျိုးသား၊ မိဘမရှိသောသူ၊ မုဆိုး
၂၁ မအဖို့ထားရမည်။-သင်၏ စပျစ်ဥယျာဉ်၌ စပျစ်
သီးကိုဆွတ်ယူသောအခါ၊ ပြန်၍ကောက်သိမ်း
ခြင်းကိုမပြုရ။ ကျန်ကြွင်း သော အသီးသည် တ
ပါးအမျိုး၊ သား၊ မိဘမရှိ သောသူ၊ မုဆိုးမ အဖို့
၂၂ ဖြစ်ရမည်။- သင်သည် အဲဂုတ္တုပြည်၌ ကျွန်ခံခဲ့
ဘူး ကြောင်းကို အောက်မေ့ရမည်။ ထိုကြောင့်
ဤပညတ်ကို ငါထား၏။

## ၂၅

၁ လူချင်း အမှု ရှိ၍၊ မင်း ထံ၌ အစီရင် ခံလျှက်၊
မင်းရှေ့မှာတရားတွေ့ကြသောအခါ၊ဖြောင့်မတ်
သောသူကို အပြစ်လွတ်စေခြင်းငှါရှင်၊ ဆိုးသော
၂ သူကို အရှုံး ခံစေခြင်း ငှါရှင် စီရင် ရမည်။- ဆိုး
သော သူ သည် အရိုက် ခံထိုက် လျှင်၊ တရား သူ
ကြီးသည်ကိုယ်မျက်မှောက်၌ သူကိုချ၍၊ အပြစ်
နှင့်အလျောက် မည်မျှသော ဒါဏ် ချက် ဖြင့် ရိုက်
၃ စေ ရ မည်။- ဘို့ သော် ထည်း၊ ၈၁ ထ် ချက် ထေး
ဆယ် ထက် မလွန် စေရ။ လွန် ၍ များစွာသော
ဒါဏ် ချက် ဖြင့် ရိုက် လျှင်၊သင် ၏ အမျိုး သား
ချင်းသည်ယုတ်ညံ့သောသူဖြစ်ထန်ရှိမည်ထုမိုး
၄ ရိပ်စရာရှိ၏။- စပါး နင်း နယ်သော နွား၏ နှုတ်
ကိုမချုပ်ထည်းရ။

၅ အတူ နေ သော ညီ အစ် ကို တို့ တွင်၊ တစုံ တ
ယောက် သော လူ သည် သား မရှိဘဲ သေ လျှင်၊
သေသောသူ၏မယားသည်အခြားတပါးသော
လူမိမ်း နှင့် စုံ ဖက် ခြင်း ကို မပြု ရ။ လူ၏ ထင်ညီ
သည် သူကိုသိမ်း၍ ထက် ထံ၍၊ မရီး၌ ပြု အပ်
၆ သော ဝတ်ကို ပြု ရမည်။- ဣသ ရေလ အမျိုး၌
အစ်ကိုအမည်ကိုမပျောက်စေခြင်းငှါ ဘွားဦးဘွား
သောသားသည် သေသောအကြီး၏အရိုပ်အရာ
၇ ကိုခံရမည်။- ညီသည်အစ်ကိုမယားကို မယူလို
လျှင်၊ မိန်းမသည် အသက်ကြီးသူတို့ရှိရာ မြို့တံခါး
ဝသို့သွား၍၊ ကျွန်မ၏ လင် ညီသည် အစ်ကိုအ
မည်ကို ဣသရေလအမျိုး၌ မတည်စေလိုပါ။ထူ
ပြု အပ် သော ဝတ် ကို မပြု လို ပါ ဟု လျှောက်
၈ လျှင်၊- မြို့၌အသက်ကြီးသူတို့သည်ထိုသူကိုခေါ်
၍မေးမြန်းရကြမည်။ သူကလည်း။ ထိုမိန်းမကိုအ
ကျွန်ုပ်မယူလိုပါဟုဆို၍၊မိုင်မာစွာနေလျှင်၊-သူ
၉ ၏မရီး သည် အသက် ကြီးသူတို့ ရှေ့မှာသူအပါး
သို့ချဉ်း၍၊ သူ၏ခြေနင်းကိုချွတ်လျက်၊ သူ၏မျက်
နှာ၌ တံထွေး ထွေး လျက်၊ မိမိ အစ်ကို အိမ်ကိုစ
ဆောက် လိုသော သူ၌ ဤသို့ပြုသင့်သည်ဟု၊ ထူ
၁၀ အားပြန်ပြောရမည်။-နောက်မှ၊ထိုသူကိုခြေနင်း
ချွတ်ရ သော အမျိုး ဟူ၍၊ ဣသ ရေလ အမျိုး၌
ခေါ်ဝေါ်သရုတ်ရမည်။
၁၁ လူချင်း ရိုက်ရန် ပြုကြ စဉ်တွင်၊ တ ယောက်
သောသူ၏ မယား သည် အပါး သို့ ချဉ်း၍၊ မိမိ
လင်ကိုကူ ညီလိုသောငှါ၊ ရိုက်ရန် ပြုသောသူ၏
၁၂ ယောက်ျား တန်ဆာကို ကိုင်ဆွဲ မိလျှင်၊- ထိုမိန်း
မလက်ကိုဖြတ်ရမည်။သင်၏မျက်စိသည်သူကိုဝ
၁၃ ထနားရ။- သင့်အိတ်၌ကြီး သော အလေး၊ ငယ်
သောအလေးတည်းဟူသော၊ ခြားနားသောအ
၁၄ လေးကိုမရှိစေရ။-သင့်အိမ်၌ခြားနားသောပြင်
၁၅ တောင်းကြီး အငယ်ကို မရှိစေရ။- သင်
၏ဘုရားသခင် ထာဝရဘုရား ပေးတော်မူသော
ပြည်၌သင်၏အသက်တာရှည်မည် အကြောင်း
မှန်ကန်သောအလေး၊မှန်ကန်သောပြင်တောင်း
၁၆ သာ ရှားကို ထား သုံးရမည်။- အထက် ဆို ခဲ့ပြီး
သောအမှုကိုပြုသောသူအပေါင်းတို့ နှင့်မတရား
သဖြင့် ပြုသော သူ အပေါင်းတို့ကို၊ သင်၏ဘုရား
သခင်ထာဝရဘုရား စက်ဆုပ် ရွံ့ရှာတော်မူ၏။
၁၇ သင်သည် အဲဂုတ္တုပြည်မှ ထွက်၍ ခရီးသွား
၁၈ သောအခါ၊- သင်သည် အားကုန်၍ မောလျှက်
နေစဉ်တွင်၊ သင့်နောက်၌ လိုက်သောသူ၊ အား

နည်းသော သူတို့ကို အာမလက် အမျိုးသားတို့
သည်ထမ်းနှိပ်ဆီးကြို၍ လုပ်ကြံကြောင်းကို၎င်း၊
ဘုရားသခင် ကို မကြောက် ရွံ့ကြောင်း ကို၎င်း
၁၉ အောင်းမေ့လေ့။-သို့ဖြစ်၍၊သင်၏ဘုရားသခင်
ထာဝရဘုရားသည် သင့် အမွေခံ စရာဘို့ အပိုင်
ပေးတော်မူ သော ပြည်၌၊ သင့် ပတ် လည်၌ နေ
သောရန်သူ အပေါင်းတို့၏ ထက်မှ ကယ်လွှတ်
၍ ချမ်းသာ ပေးတော်မူသောအခါ၊ အာမလက်
အမျိုးကိုအောင်းမေ့စရာမရှိစေခြင်းငှါ၊ကောင်း
ကင်အောက်၌ သုတ်သင်ပယ်ရှင်းရမည်။ ထိုအ
မှုကိုမမေ့မလျော့ရ။

## ၂၆

၁ သင်၏ဘုရားသခင် ထာဝရဘုရားသည်၊ သင့်
အမွေခံစရာဘို့ပေးတော်မူသောပြည် သို့သင်သည်
၂ ဝင်စား၍ နေသော အခါ၊- သင်၏ ဘုရား သခင်
ထာဝရဘုရားပေးတော်မူသောပြည်၌အဦးသီး
သောအသီးအမျိုးမျိုးကိုယူ၍ခြင်းတောင်း၌ထည့်
ပြီးမှ၊သင်၏ ဘုရားသခင် ထာဝရ ဘုရား၏ နာမ
တော် တည် စရာဘို့ ရွေးကောက်တော် မူသော
၃ အရပ်သို့သွား၍၊-ထိုကာလ၌ ယဇ်ပုရောဟိတ်
လုပ်သော သူထံသို့ချည်းကပ်လျက်၊ ထာဝရဘုရား
သည်ငါတို့အားပေးခြင်းငှါ၊ဘိုးဘေးတို့အား ကျိန်
ဆိုတော် မူသောပြည်သို့ အကျွန်ုပ် ရောက်ပါပြီ
ဟု၊ ကိုယ်တော်၏ ဘုရား သခင် ထာဝရ ဘုရား
အားယနေ့ အကျွန်ုပ် ဝန်ခံပါသည်ဟု၊ ယဇ်ပ
၄ ရောဟိတ် အား ပြော ဆို ရမည်။- ယဇ် ပ ရော
ဟိတ်သည်ထည်း၊ ခြင်း တောင်းကို သင့် ထက်မှ
ယူ၍၊သင်၏ဘုရားသခင်ထာဝရဘုရား၏ ယဇ်
၅ ပလ္လင်ရှေ့မှာ ချထားရမည်။- သင်ကလည်း၊ အ
ရပ်ရပ်သို့လှည့်လည်သောရှုရိအမျိုးသားသည်၊
အကျွန်ုပ် အဘဖြစ်ပါ၏။ သူသည် အဲဂုတ္တုပြည်
သို့သွား၍၊လူအနည်းငယ်နှင့်တကွတည်းခိုစဉ်
တွင်၊ ကြီးပွား များပြားသော လူမျိုး ဖြစ်ပါ၏။-
၆ အဲဂုတ္တု လူ တို့သည် အကျွန်ုပ် တို့ကို ညှဉ်းဆဲ
၇ နှိပ်စက်၍၊ကြပ်တည်းစွာ ကျွန်ခံစေကြ၏။-ဘိုး
ဘေး တို့ ကိုး ကွယ် သော ဘုရား သခင် ထာ ဝရ
ဘုရားကိုအော်ဟစ်၍ လျှောက်ကြသောအခါ၊
ထာဝရဘုရားသည် နားထောင် တော် မူသဖြင့်၊
အကျွန်ုပ်တို့ ခံရသော ညှဉ်းဆဲ နှိပ်စက် ခြင်း၊
၈ ပင်ပန်းခြင်းဘို့ကို ကြည့်ရှုတော်မူ၏။- ထိုအခါ
ထာဝရဘုရားသည် တန်ခိုးကြီးသော လက်ရုံး
တော်ကိုဆန့်၍၊ ကြောက်မက်ဖွယ်သောနိမိတ်
လက္ခဏာအံ့ဖွယ်သောအမှုတို့ဖြင့် အကျွန်ုပ်တို့
၉ ကိုအဲဂုတ္တုပြည်မှနှုတ်ပြီးလျှင်၊- နို့နှင့်ပျားရည်
စီးသော၊ဤပြည်သို့ပို့ဆောင်၍ပေးသနားတော်
၁၀ မူ၏။- ယခုမှာဖို့ထာဝရဘုရား၊ကိုယ်တော်ပေး
သနားတော်မူသောပြည်၌အဦးသီးသောအသီး
ကို အ တွန်ုပ် ဆောင် ခဲ့ပါ ပြီ ဟု၊ သင် ၏ ဘုရား
သခင် ထာဝရ ဘုရားအား လျှောက် ဆိုလျက်၊
ထိုအသီးကို သင်၏ ဘုရားသခင် ထာဝရ ဘုရား
ရှေ့တော်၌ ထားရမည်၊ ရှေ့တော်၌ ထည်းကိုး
၁၁ ကွယ်ခြင်းကိုပြုရမည်။-သင်၏ဘုရားသခင်ထာ
ဝရဘုရား သည်၊ သင် နှင့် သင်၏ အိမ်သူ အိမ်
သားတို့အား ပြုတော်မူ သမျှ သော ကျေးဇူး၌၊
သင် သည်၊ သင်နှင့် အတူ တည်းခိုသော လေဝိ
သားမှစ၍၊ တပါးအမျိုး သားတို့နှင့် တကွရွှင်
မြူးခြင်းကိုပြုရမည်။

၁၂ သုံးနှစ်တွင် ဆယ်ဘို့တဘို့ပေးရသော တတိယ
နှစ်ရောက်သောအခါ၊အစီးအပွားရှိသမျှတို့ကို
ဆယ်ဘို့ တဘို့ ကောက်ယူ၍၊ လေဝိသား၊ တပါး
အမျိုးသား၊မိဘမရှိသောသူ၊မုဆိုးမတို့ကိုသင့်
၁၃ နေရာ မြို့ ရွာ၌ ဝစွာ ကျွေး မွေး ပြီးမှ၊- သင်၏
ဘုရားသခင် ထာဝရ ဘုရား အား၊ ကိုယ်တော်
သည်အကျွန်ုပ်ကိုမှာထားတော်မူသမျှအတိုင်း
သန့်ရှင်းသော ဥစ္စာထိုကို အိမ်မှထုတ်၍ လေဝိ
သား၊တပါးအမျိုးသား၊မိဘမရှိသောသူ၊မုဆိုး
မတို့ အားပေး ပါပြီ။ ပညတ် တော် တို့ကို မလွန်
၁၄ ကျူး၊မမေ့လျော့ပါ။-မသာအမှုကိုဆောင်စဉ်
အခါ၊ ထိုဥစ္စာကိုအကျွန်ုပ်မစားပါ။ မစင်ကြယ်
သောအသုံးအဆောင်ဘို့အနည်းငယ်ကိုမျှမယူ
ပါ။ သေသောသူတို့တဘို့အနည်းငယ်ကိုမျှမပေး
ပါ။ အကျွန်ုပ် ဘုရား သခင် ထာ ဝ ရ ဘုရား၏
စကားတော်ကိုနားထောင်ပါပြီ။ ကိုယ်တော်မှာ
၁၅ ထားတော်မူသမျှအတိုင်း၊ပြုပါပြီ။- ကိုယ်တော်
၏သန့်ရှင်းသောနေရာကောင်းကင်ဘုံမှငုံ့ကြည့်
၍၊ကိုယ်တော်၏လူဣသရေလအမျိုးကို၎င်း၊ဘိုး
ဘေးတို့အား ကျိန်ဆိုတော်မူသည်အတိုင်း၊ အ
ကျွန်ုပ်တို့အားပေးတော်မူသောပြည်၊နို့နှင့်ပျား
ရည်စီးသောပြည်ကို၎င် ကောင်းကြီး ပေးတော်
မူပါဟုလျှောက် ဆိုရမည်။

၁၆ ယခုစီရင်ထုံးဖွဲ့သမျှအတိုင်း ကျင့်ရမည်ဟု၊
သင်၏ဘုရားသခင်ထာဝရဘုရားမှာထားတော်
မူသည်ဖြစ်၍၊ပိတ်နှစ်လုံးအကြွင်းမဲ့ကျင့်စောင့်
၁၇ ရမည်။- ထာ ဝ ရ ဘု ရား သည် သင် ၏ ဘုရား

သခင်ဖြစ်တော်မူသည်ဟူ၍၎င်း၊ လမ်းတော်သို့
လိုက်ပါမည်၊ စီရင်ထုံးဖွဲ့တော်မူသော ပညတ်
တရားတော်ကိုစောင့်ရှောက်ပါမည်၊ စကားတော်
ကိုနားထောင်ပါမည်ဟူ၍၎င်း ယနေ့သင်သည်
၁၈ ဝန်ခံပြီ။- ထာဝရဘုရားသည်လည်း၊ ဂတိထား
တော်မူသည်အတိုင်း၊ သင်သည်ပညတ်တော်အ
လုံးစုံတို့ကို စောင့်ရှောက်ခြင်းငှါ၊ အထူးသ
၁၉ ဖြင့်ကိုယ်တော်၏လူမျိုး ဖြစ်သည်ဟူ၍၎င်း၊-ခန့်
ထားတော်မူသောလူမျိုး တကာတို့ထက် သင်၏
ဂုဏ်အသရေ ကျော်စော ကိတ္တိကို လွန်ကဲစေ
တော်မူမည်ဟူ၍၎င်း ဂတိတော်ရှိသည့်အတိုင်း၊
သင်၏ဘုရားသခင် ထာဝရဘုရားအဖို့ သန့်ရှင်း
သောလူမျိုး ဖြစ်စေခြင်းငှါ၎င်း ယနေ့ ဝန်ခံတော်
မူပြီဟု၊ ဣသရေလ အမျိုးသားတို့အား ဟော
ပြောလေ၏။

## ၂၇

၁ ထိုနောက် မောရှေသည်၊ ဣသရေလ အမျိုး၌ အ
သက်ကြီးသူတို့နှင့်တကွ၊ လူများတို့ကိုမှာထား
သည်ကား၊ ယနေ့ငါထားထမှာသောပညတ်တို့
၂ ကိုစောင့်ရှောက်ကြလော့။-သင်သည်ယော်ဒန်
မြစ်ကိုကူး၍၊ သင်၏ဘုရားသခင်ထာဝရဘုရား
ပေးတော်မူသောပြည်သို့ရောက်သောအခါ၊ ကြီး
သော ကျောက် တို့ကိုထူထောင်၍၊ အင်္ဂတေနှင့်
၃ လွှမ်းခံရမည်။- ဘိုးဘေးတို့ ကိုးကွယ်သော
ဘုရားသခင် ထာဝရဘုရားသည်၊ ဂတိတော်ရှိ
သည်အတိုင်း၊၊ သင့်အားပေးတော်မူသောပြည်၊
နို့နှင့်ပျားရည်စီးသောပြည်သို့ဝင်စားစေသော
ငှါကူးသွားပြီးမှ၊ ဤတရားစကားတော်အလုံးစုံ
တို့ကို ထိုကျောက်ပေါ်မှာ ရေးထားရမည်။-
၄ ယော်ဒန်မြစ်ကိုကူးပြီးမှ၊ ယနေ့ငါမှာထားသော
ကျောက်တို့ကို ဧဗလ တောင်ပေါ်မှာ ထူထောင်
၅ ၍၊ အင်္ဂတေနှင့် လွှမ်းခံရမည်။-ထိုအရပ်၌လည်း၊
၆ သင်၏ ဘုရား သခင် ထာဝရဘုရား အဖို့ ယဇ်
ပလ္လင်ကိုကျောက်နှင့်တည်ရမည်။ သံတန်ဆာ
ကိုမသုံးဆောင်ဘဲ၊ မကွဲမပြတ်သောကျောက်တို့
နှင့် တည်ရမည်။ သင်၏ ဘုရား သခင် ထာဝရ
ဘုရားအားမီးရှို့ရာယဇ်တို့ကို ထိုပလ္လင်ပေါ်မှာ
၇ ပူဇော်ရမည်။- မိဿဟာယ ယဇ်တို့ကိုလည်း
ပူဇော်၍၊ ထိုအရပ်တွင် စားသောက် လျက်ရှေ့
၈ တော်၌ ကျော်ရွှင်ခြင်းကိုပြုရမည်။- ထိုကျောက်
ပေါ်မှာ၊ ဤတရားစကားတော်အလုံးစုံတို့ကိုသေ
၉ ချာစွာ ရေးထားရမည်ဟု ပြောဆိုကြ၏။- ထိုနောက်
မောရှေနှင့် လေဝိ ပုရောဟိတ်များ၊ လေဝိသား
များတို့က၊ အိုဣသရေလအမျိုး၊ သတိနှင့်နား
ထောင်လော့၊ ယနေ့ သင်သည် သင်၏ဘုရားသ
၁၀ ခင်ထာဝရဘုရား၏ လူမျိုးဖြစ်လေပြီ။- ထိုဖြစ်
၍၊ သင်၏ဘုရားသခင် ထာဝရဘုရား၏ စကား
တော်ကို နားထောင်ရမည်၊ ယနေ့ ငါထိုဆင့်ဆို
သောစီရင်ထုံးဖွဲ့တော်မူချက် တို့ကို ကျင့်ရမည်
ဟု၊ ဣသရေလ အမျိုးသား အပေါင်းတို့အား
ပြောဆိုကြ၏။
၁၁ ထိုနေ့ မောရှေသည် ထိုနေ့၌ လူများတို့ကိုမှာ
၁၂ ထားသည်မှာ၊- သင်တို့သည် ယော်ဒန်မြစ်ကို
ကူးသော နောက်၊ လူများ ကို ကောင်းကြီး
ပေးခြင်းအလိုငှါ ဂေရဇိမ်တောင်ပေါ်မှာ ရပ်ရ
သော သူတို့မှကား၊ ရှိမောင်၊ လေဝိ၊ ယုဒ၊ ဣသ
၁၃ ခါ၊ ယောသပ်၊ ဗင်္ယာမိန်တည်း။- ကျိန်ခြင်းအ
လိုငှါ၊ ဧဗလတောင်ပေါ်မှာ ရပ်ရသော သူတို့မှ
ကား၊ ရုဗင်၊ ဂဒ်၊ အာရှာ၊ ဇာဗုလုန်၊ ဒန်၊ နဿ
၁၄ လိတည်း။- လေဝိအမျိုးသားတို့သည် ကြီး
သောအသံနှင့် ဣသရေလ အမျိုးသား အပေါင်း
၁၅ တို့အား ကြွေးကြော်ရ သော စကား ဟူမူကား၊-
ထာဝရဘုရား စက်ဆုပ် ရွံရှာသော အရာ၊ လက်
သမားလက်နှင့်လုပ်သောရုပ်တု၊ သွန်းသော
ဆင်းတုကိုလုပ်၍၊ မထင်ရှားသောအရပ်၌ထား
သောသူသည် အမင်္ဂလာ ရှိစေသတည်းဟု ကျိန်
လျှင်၊ လူအပေါင်းတို့က၊ အာမင်ဟု ဝန်ခံ ရကြ
၁၆ မည်။- မိဘကိုမထီမဲ့မြင်ပြုသောသူသည်အမင်္
ဂလာရှိစေသတည်းဟုကျိန်လျှင်၊လူအပေါင်းတို့
၁၇ က၊ အာမင်ဟု ဝန်ခံရကြမည်။- အိမ်နီးချင်း၏
မြေမှတ်တိုင်ကို ရွှေ့သော လူသည် အမင်္ဂလာရှိ
စေသတည်းဟု ကျိန်လျှင်၊ လူအပေါင်းတို့က၊
၁၈ အာမင်ဟုဝန်ခံရကြမည်။-မျက်စိမမြင်သောသူ
ကိုလမ်းလွဲစေသော သူသည် အမင်္ဂလာ ရှိစေသ
တည်းဟုကျိန်လျှင်၊ လူအပေါင်းတို့က၊အာမင်
၁၉ ဟုဝန်ခံရကြမည်။- တရားလွှဲခြင်း၊ အမှုမှာတ
ပါးအမျိုးသား၊ မိဘ မရှိသောသူ၊ မုတ်ဆိုးမ တို့
တရားသဖြင့်အရှုံးပေးသောသူသည်အမင်္ဂလာ
ရှိစေသတည်းဟု ကျိန်လျှင်၊ လူအပေါင်းတို့က၊
၂၀ အာမင် ဟု ဝန်ခံ ရကြမည်။- အဘနှင့် ဆိုင်
သောအဘ၏မယားနှင့် ပေါင်းဖော်သောသူသည်
အမင်္ဂလာ ရှိ စေ သ တည်း ဟု ကျိန် လျှင်၊ လူအ
၂၁ ပေါင်းတို့က၊ အာမင် ဟု ဝန်ခံ ရကြ မည်။- တိ
ရစ္ဆာန်တမျိုးမျိုးနှင့် ပေါင်းဖော်သောသူသည်

အမင်္ဂလာ ရှိစေသ တည်း၊ ထု ကျိန် လျှောင်၊ ထု အ
၂၂ ပေါင်းထိုက၊ အာမင်ထု ဝန်ခံရကြမည်။-အဖ၏
သမီး၊ အမိ၏သမီး တည်းဟူသော၊ မိမိအစ်မ နှစ်မ
နှင့် ပေါင်းဖော်သောသူသည်အမင်္ဂလာရှိစေသ
တည်း၊ထုကျိန်လျှောင်၊ ထုအပေါင်းထိုက၊ အာမင်
၂၃ ထုဝန်ခံရကြမည်။-မယား၏အမိနှင့်ပေါင်းဖော်
သောသူသည်အမင်္ဂလာရှိစေသတည်း၊ထု ကျိန်
လျှောင်၊ ထု အပေါင်းထိုက၊ အာမင်ထု ဝန်ခံ ရကြ
၂၄ မည်။-အိမ်နီးချင်းကိုမထင်မရှား ရိုက်သောသူ
သည် အမင်္ဂလာ ရှိစေ သ တည်း၊ ထု ကျိန် လျှောင်၊
ထု အပေါင်းထိုက၊ အာမင်ထု ဝန်ခံရကြမည်။-
၂၅ အပြစ် မရှိ သောသူ၏ အသက် ကို သတ်ခြင်းငှါ
အခကို ခံ ယူသော သူသည် အ မင်္ဂလာ ရှိစေ သ
တည်း၊ထု ကျိန်လျှောင်၊ ထုအပေါင်းထိုက၊ အာမင်
၂၆ ထု ဝန်ခံရကြမည်။- ဤပညတ်တရားစကားထို
ကိုအမြဲမကျင့်သောသူသည် အမင်္ဂလာရှိစေ သ
တည်း၊ထု ကျိန်လျှောင်၊ ထုအပေါင်း ထိုက၊အာမင်
ထုဝန်ခံရကြမည်။

၂၈

၁ ထာရွေ ငါဆင့်ဆို သမျှသော ပညတ် တော်ထို
ထိုကိုထင်ထည်ကျင့်စောင့်ခြင်းငှါ၊သင်၏ဘုရားသ
ခင် ထာဝရဘုရား ၏ စကားတော်ကိုဘွေ ဖွေနား
ထောင်လျှင်၊ ထင်၏ဘုရားသခင် ထာဝရဘုရား
သည်လူမျိုးတကာတို့ထက်၊ သင့်ကိုချီးမြှောက်
၂ တော်မူမည်။-သင်၏ဘုရားသခင်ထာဝရဘုရား
၏ စကားတော်ကိုနားထောင်လျှင်၊ သင့်အပေါ်
မှာသက်ရောက်ထတွံသောကောင်းကြီးမင်္ဂလာ
၃ များဟူ ရုကား၊-ထင်သည် မြို့ ၌ မင်္ဂလာ ရှိလိမ့်
၄ မည်၊တော၌မင်္ဂလာရှိလိမ့်မည်။-သားသွီး၊အား
ဖြစ်၎င်း၊မြေအသီးအနှံ့ အားဖြစ်၎င်း၊ တိရိစ္ဆာန်
ပွားသောသားငယ်အားဖြစ်၎င်း၊ သိုးနွား အမီး
၅ အ ပွား အား ဖြစ် ၎င် မင်္ဂလာရှိလိမ့်မည်။- ခြင်
တောင်း၌၎င်း၊ ရုန်နယ်သောခွက်၌၎င် မင်္ဂလာ
၆ ရှိလိမ့်မည်။- မိမိအိမ်ထဲသို့ ဝင် သော အခါ မင်္ဂ
လာ ရှိလိမ့် မည်၊ ပြင်သို့ ထွက် သော အခါ မင်္ဂ
၇ လာ ရှိလိမ့်မည်။- သင့်တဖက်၌ထသော ရန်သူ
တို့ကို၊ သင့်ရှေ့မှောက်၌ ထာဝရ ဘုရားသည်
ရှုံး ခံ စေ တော် မူ မည်၊ သူတို့ သည် တ ထမ်း
တည်း၊ဖြင့် သင့် ရှိရာသို့ လာ သော်လည်း၊ထမ်း
၈ ခုနစ်သွယ်ဖြင့်သင့်ရှေ့မှပြေးကြလိမ့်မည်။-သင်
၏ ထပ္ပါ ထိုက်၌ ၎င်း၊ သင်ပြုလေရာရာ ၌ ၎င်း၊
ထာ ဝရ ဘုရားသည်သင့် အ ပေါ်မှာ မင်္ဂ လာ
ရောက် စေ ခြင်း၊ ငှါ မိန့် တော် မူ မည်၊ ထင်၏
ဘုရား သခင် ထာဝရ ဘုရား ပေး တော်မူ သော
ပြည် ၌ သင့်ကို ကောင်း ကြီး မင်္ဂလာ ပေး တော်
၉ မူမည်။- ထင်သည် သင် ၏ ဘုရားသခင်ထာဝရ
ဘုရား၏ပညတ်တော်တို့ကိုစောင့်၍ ထမ်းတော်
သို့ လိုက်လျှောင်၊ ထာဝရဘုရား ကျိန် ဆိုသည်အ
တိုင်း၊ သင့်ကို ကိုယ်တော် အဖို့ သန့် ရှင်းသော
၁၀ အမျိုး အစည် အမြဲ ဖြစ်စေ တော် မူမည်။- ထင်
သည် ထာဝရ ဘုရား၏ နာမတော်ဖြင့်ခေါ်ဝေါ်
ထရတ်ခြင်းကို ခံရသည်ထု၊ လူမျိုးခပ်သိမ်းတို့
သည်သိမြင်၍၊သင့်ကိုကြောက်ရွံ့ကြလိမ့်မည်။-
၁၁ ထာဝရ ဘုရားသည် သင့်အား ပေးခြင်းငှါ၊ ဘိုး
ဘေးတို့အားကျိန် ဆိုတော်မူသောပြည်၌ ဝမ်းဝ
ပစ္စည်း၊ သားသွီး၊ တိရိစ္ဆာန်အတိုးအပွား၊ မြေ
အသီး အနှံ့ များကို ကြွယ်ဝ စေတော် မူမည်။-
၁၂ ထာဝရဘုရားသည်၊ အမိုးတန်မှသင်၏ပြည်၌
မိုးသီး ရွာ စေ ခြင်း ငှါ ၎င်း၊ သင် ပြု လေ ရာ ရာ၌
ကောင်းကြီးပေးခြင်းငှါ၎င်း၊ထဘ္ဘာတော်တိုက်
တည်းဟူသော မိုးသီးကောင်းကင်ကို ဖွင့်တော်
မူမည်၊ သင်သည် လူမျိုး များတို့အား ချေးငှါးရ
သော အခွင့် ရှိလိမ့် မည်၊ သူတို့သည် သင့် အား
၁၃ ချေးငှါးရသောအခွင့်မရှိရ။-ထာဝရဘုရားသည်
ထင့်ကို အမြီးမဖြစ် စေဘဲ၊ ခေါင်းဖြစ်စေတော်မူ
အဖြင့်၊သင်သည်အောက်၌ မနေရဘဲ၊အပေါ်၌
သာ နေရသောအခွင့် ရှိလိမ့်မည်၊ ယနေ့ ငါဆင့်
ဆိုသော၊ သင်၏ ဘုရား သခင် ထာဝရ ဘုရား၏
ပညတ်တော်တို့ကိုကျင့်စောင့်ခြင်းငှါနားထောင်
၁၄ လျှောင်၎င်၊- ယနေ့ ငါ ဆင့် ဆိုသော စကား တော်
ထမ်းမှထွက်၍ထက်ျာထတ်၊ထတ်ဝဲထတ်သို့မ
ဖွဲ့၊ အခြားတပါးသော ဘုရား နောက်သို့ လိုက်
၍ ဝတ်မပြုဘဲနေလျှောင်၎င်၊ ထိုသို့သော ကျေးဇူး
တော်ကိုခံရလိမ့်မည်။
၁၅ ယနေ့ ငါဆင့်ဆို သော၊ သင်၏ ဘုရား သခင်
ထာဝရဘုရား၏ရင် ထုံးဖွဲ့ တော်မူချက် အထုံး၏
ထို့ကိုကျင့် စောင့် ခြင်းငှါ စကား တော်ကို နားမ
ထောင်လျှင်၊ သင့်အပေါ်မှာ သတ်ရောက် ထတွံ
၁၆ သောကျိန်ခြင်း အမင်္ဂလာများဟူရုကား၊- ထင်
သည်မြို့၌ အမင်္ဂလာ ရှိလိမ့်မည်၊ တော၌ အမင်္ဂ
၁၇ လာ ရှိလိမ့် မည်။- ခြင်တောင်း ၌ ၎င်း၊ ရုန်နယ်
၁၈ သော ခွက်၌ ၎င် အမင်္ဂ လာ ရှိလိမ့်မည်။- သား
သွီး၊ အားဖြင့် ၎င်း၊ မြေ အသီး၊ အနှံ့ အား ဖြင့်၎င်း၊
သိုး နွား၊အမီး၊ အပွား အား ဖြင့်၎င် အမင်္ဂ လာရှိ

၁၉ ထိမိ်မည်။ — မိမိဆိမ်ဆဲသို့ ဝင်သော အခါ အမဝီ
ထာမှိလိမ့်မည်၊ ဖြင်သို့ ထွတ်သောအခါ အမဝီ
၂၀ မှိလိမ့်မည်။-ထာဝရဘုရားကို စွန့်၍ ပြု မိသော
ရစမှိုက် အပြစ် ကြောင့်၊ အလျင် အမြန် ပျက်စီး
ဆုံးရှုံးခြင်းသို့မရောက်မှီတိုင်အောင်၊ ပြုလေရာ
ရာ၌ ကျိန်ဆဲခြင်း၊ နှောင့်ရှက်ခြင်း၊ ကဲ့ရဲ့ခြင်းတို့
ကိုသင့်အပေါ်မှာသက်ရောက်စေတော်မူမည်။—
၂၁ သင်သွား၍ ဝင်စားထတ့်သောပြည်မှသုတ်သင်
ပယ်ရှင်းတော်မ မူမှီတိုင်အောင်၊ကာလနာကို
၂၂ သင်၌ စွဲစေတော်မူမည်။- ထာဝရဘုရား သည်
သင့်ကို တူထာ၊ ဖျားနာ၊ ဗလခက်နာ၊ ခရခရနာ
ခြင့်ဒုဝ်၊ ထားထေး၊ ထေထိ၍ အပင် သေထေး၊
အရည်ယို၍ အပင် သေအေးခြင့်ဒုဝ် ဒါဏ်ခတ်
တော်မူ၍၊သင်သည်မပျက်စီးမှီတိုင်အောင်၊ထို
၂၃ အေးတို့သည် လိုက် ကြလိမ့်မည်။- သင့် ခေါင်း
ပေါ်မှာမိုဃ်းကောင်းကင်သည် ကြေးဝါကဲ့ သို့
ဒုင်၊ သင့်အောက်၌ မြေသည် သံကဲ့ သို့ ဒုင် ဖြစ်
၂၄ လိမ့် မည်။— ထာ ဝ ရ ဘု ရား သည် သင့် နေ ရာ
ပြည်၌ ရွာသော မိုဃ်းရေကို မြေမှုန့်၊ ဖုံဖြစ် စေ
တော်မူသဖြင့်၊သင်သည်မပျက် စီးမှီတိုင်အောင်၊
၂၅ သင့်အပေါ်မှာကျရလိမ့်မည်။- သင်၏ရန်သူရှေ့
မှာထာဝရဘုရားသည် သင့်ကို ဒါဏ် ပေးတော်
မူမည်၊ သင်သည်တလမ်းတည်းဖြင့်သူတို့ရှိရာ
သို့သွား သော်လည်း၊ ထမ်း ခုနှစ်သွယ် ဖြင့် သူ
တို့ရှေ့မှပြေး၍၊မြေပေါ်မှာရှိသောအတိုင်းတိုင်း
၂၆ အပြည်ပြည်သို့ ပြောင်းသွားရလိမ့် မည်။- သင်
၏အသေကောင် သည် မိုဃ်းကောင်းကင် ငှက်၊
တောသား၊ ရဲစားစရာဘို့ ဖြစ်ရ လိမ့်မည်၊ ထိုတိ
၂၇ ရိစ္ဆာန် တို့ကို အဘယ် သူမျှ မ မောင်း ရ။- ထာ
ဝရဘုရားသည်သင့်ကိုအဲဂုတ္တုအနာမိမ်း၊မြင်း
အမိုက်နာ၊ ဝဲနာ၊ မပျောက် နိုင် သော ယားနာ
၂၈ ဖြင့် ဒါဏ် ခတ် တော် မူမည်။- ရူးသော အနာ၊
 မျက်မိ ကန်းသောအနာ၊မိန်းမော တွေဝေသော
၂၉ အနာ ဖြင့် ဒါဏ် ခတ် တော်မူ၍၊- မျက်မိ ကန်း
သောသူသည် မှောင်မိုက်၌စမ်းသပ်ရသကဲ့ သို့၊
သင်သည်မွန်းတည့်အချိန်၌ပင်စမ်းသပ်ရလိမ့်
မည်၊ သင်ပြုသောအမှု၌မအောင်ဘဲ၊ညှဉ်းဆဲ
ခြင်း၊လုယူခြင်းကိုသာခံရလိမ့်မည်၊အဘယ်သူ
၃၀ မျှမကယ် တင် ရ။- မိန်း နှင့် ထက် ထပ် ပြီးသော်
လည်း၊ အခြားသောသူသည်ပေါင်းဖော်ရလိမ့်
မည်၊အိမ်ကိုဆောက်သော်လည်း၊ ကိုယ်တိုင်မ
နေရ၊ စပျစ် ဥယျာဉ်ကို စိုက်သော်လည်း၊ စပျစ်
သီးကို မဆွတ် မယူရ။- သင့် နွား ကို သင့် မျက်
မှောက်၌ သတ်၍ သေသော်လည်း၊ သင့် ကိုယ်
တိုင်မစားရ၊ သင့်မြည်းကိုသင့်ရှေ့မှောက်၌ အနိုင်
အထက်ယူသွားပြီးမှ၊ နောက်တဖန်ပြန်၍မပေး
ရ၊ သင့်သိုးတို့ကို သင့်ရန်သူ၌ အပ်သော အခါ၊
၃၂ ကယ်နှုတ်သောသူမပေါ်မရှိရ။- သင့်သားသမီး
တို့သည် သူတပါးထက်သို့ရောက်၍၊ သင့်မျက်
စိသည် တနေ့လုံး မျှော် ကြည့် လျက် အား လုန်
လိမ့်မည်၊ သင့်လက်သည် လည်း၊ ခွန်အားမရှိ
၃၃ ရ။-သင်မသိ မကျွမ်းသော လူမျိုးသည် သင့်နေ
ရာပြည်၏ အသီးအနှံ ကိုဒုင်၊ သင်လုပ်ဆောင်၍
ရသော ဥစ္စာကို ဒုင် စား လိမ့် မည်၊ သင် သည်
ညှဉ်းဆဲနှိပ်စက်ခြင်းကိုသာ အစဉ်မပြတ်ခံရ
၃၄ လိမ့်မည်။- ထိုသို့ကိုယ်တိုင်တွေ့မြင်သော အမှု
၃၅ ကြောင့်၊ သင်သည်အရူးဖြစ်ရလိမ့်မည်။- ထာ
ဝရဘုရားသည် သင့် ဒူးနှင့် ခြေ ထောက် မထား
ခြေဖဝါး မှ စ၍ ဥကျွောင်း ထိပ် တိုင် အောင်၊ မ
ပျောက် နိုင်သောအနာမိမ်းဖြင့် ဒါဏ်ခတ်တော်
မူမည်။
၃၆ ထာဝရဘုရားသည်၊သင်ချီးမြှောက်သောရှင်
ဘုရင်ကို၊ သင်နှင့်သင့်ဘိုးဘေးတို့ မသိမကျွမ်း
ဘူးသောလူမျိုးရှိရာသို့ ဆောင်သွားတော်မူသ
ဖြင့်၊ သင်သည် အခြားတပါးသော ဘုရား၊ သစ်
သားဘုရား၊ကျောက်ဘုရားတို့ကိုဝတ်ပြုရလိမ့်
၃၇ မည်။-ထာဝရဘုရားသည် သင့်ကိုဆောင်သွား
တော်မူသော အပြည် ပြည် တို့၌၊ သင်သည် အံ့
ဩစရာ၊ ပုံပြိုင်းရာ၊ ကဲ့ရဲ့ ရာ ဖြစ် လိမ့် မည်။—
၃၈ သင်သည် မျိုးစေ့ အများ ရှိ၍ လယ်သို့ ထုတ်
သွား၍၊ ကျိုင်းကောင်တို့သည် ကိုက် စားသော
ကြောင့်၊ နည်းသောစပါးကို သိမ်းရလိမ့်မည်။—
၃၉ စပျစ် ဥယျာဉ်တို့ကိုစိုက်၍ ပြုစုသော်လည်း၊ ပိုး
မွှား ကိုက်စားသောကြောင့်၊ကိုယ်တိုင်စပျစ်သီး
ကို မဆွတ်ရ၊ စပျစ်ရည်ကိုလည်း၊မသောက်ရ။—
၄၀ သင့်နေရာအရပ်ရပ်၌ သံလွင်ပင်ရှိသော်လည်း၊
အသီး မ မှည့်မှီ ကြွေ သောကြောင့်၊ သင် သည်
၄၁ သံလွင်ဆီနှင့် ကိုယ်ကိုမလိမ်းရ။- သားသမီး တို
ဖွားမြင်သော်လည်း၊ သူတို့နှင့်မပျော် မ မွေ့ရ။
၄၂ ရန်သူတို့သည်သိမ်းသွားကြလိမ့်မည်။-သင့်နေ
ရာပြည်၌ သစ်ပင်ရှိသမျှ၊ မြေအသီး အနှံရှိသ
မျှကို ကျိုင်းကောင်တို့သည် ကိုက် စား ကြ လိမ့်
မည်။-သင်နှင့်အတူ နေသောတပါးအမျိုးသား
သည်မြင့်လျက်၊ သင့်အပေါ်သို့တက်လိမ့်မည်၊

သင်မူကား အောက်သို့ဆင်း၍ နေရလိမ့်မည်။-
၄၄ သူသည် သင့်အား ချေးငှါးသော အခွင့် ရှိလိမ့်
မည်။ သင်မူကား၊ သူ့အား ချေးငှါးသော အခွင့်မ
ရှိရ။ သူသည် ခေါင်းဖြစ်၍၊ သင်သည် အမြီးဖြစ်
၄၅ လိမ့်မည်။- သင်၏ ဘုရားသခင် ထာဝရ ဘုရား
ထားတော်မူသော စီရင် ထုံးဖွဲ့ချက် တရားကို
စောင့်ရှောက်ခြင်းငှါ၊ သင်သည် စကားတော်
ကို နား မထောင်သောကြောင့်၊ မပျက်စီးမှီတိုင်
အောင်၊ ဤကျိန်ခြင်း၊ အမင်္ဂလာ ရှိသမျှတို့သည်
သင့်အပေါ်မှာ သက်ရောက်လျက်၊ သင့်ကို လိုက်
၄၆ ၍ မှီလျက်မှီကြလိမ့်မည်။- သင့်အပေါ်၌၎င်း၊ သင့်
အမျိုး၊ အနွယ်အပေါ်၌၎င်း၊ အစဉ်မပြတ် နိမိတ်
လက္ခဏာ၊ အံ့ဩဖွယ်သော အမှုဖြစ်ကြလိမ့်မည်။-
၄၇ သင်သည် ဥစ္စာကြွယ်ဝသော အခါ၊ ဝမ်းမြောက်
ရွှင်လန်းသော စိတ်နှင့် သင်၏ ဘုရားသခင် ထာ
ဝရဘုရား၏ အမှုတော်ကို မဆောင် မရွက်သော
၄၈ ကြောင့်၊- ထာဝရဘုရား စေလွှတ်တော်မူသော
ရန်သူ၏ အမှုကို၊ သင်သည် မွတ်သိပ်ခြင်း၊ ရေ
ငတ်ခြင်း၊ အဝတ်အချည်းစည်းရှိခြင်း၊ နှင့်တကွ
အရာရာ၌ ဆင်းရဲစွာ ဆောင်ရွက်ရလိမ့်မည်။
သင်သည် မပျက်စီးမှီတိုင်အောင်၊ သင့်လည်ပင်း
၌ သံထမ်းပိုးကို တင်ထားတော်မူမည်။
၄၉ ရွှေလင်းတ ပျံတတ်သကဲ့သို့ လျင်မြန်သော လူ
၅၀ မျိုး၊ ကြမ်းတမ်းသော မျက်နှာနှင့် ပြည့်စုံလျက်၊
အသက်ကြီးသူကို မရှိသေ၊ အသက်ငယ်သူကို မ
သနားတတ်သော လူမျိုးကို၊ ဝေးသော အရပ်၊
မြေကြီးစွန်းမှ ထာဝရဘုရားသည် ခေါ်၍၊ သင့်
၅၁ ကို တိုက်စေတော်မူမည်။- သင်သည် မပျက်စီး
မှီတိုင်အောင်၊ ထိုရန်သူသည် သင်၏ သိုးသငယ်၊
နွားသငယ်၊ မြေအသီးအနှံကို စားရလိမ့်မည်။
သင့်ကို မဖျက်ဆီးမှီတိုင်အောင်၊ ဆန်စပါး၊ စပျစ်
ရည်၊ ဆီ၊ သိုးနွားအစီးအပွားကို သင့်အဖို့ မချန်
၅၂ မထားရ။- သင့်နေရာ ပြည်အရပ်တို့၌ သင် ကိုး
စားသော မြို့ရိုး၊ မြင့်၍ ခိုင်ခံ့သော မြို့ရိုး၊ ထိုသည်မ
ပြိုမကျမှီတိုင်အောင်၊ သင့်နေရာ မြို့ရှိသမျှတို့ကို
ဝိုင်းထားလိမ့်မည်။ သင်၏ ဘုရားသခင် ထာဝရ
ဘုရား ပေးတော်မူသော ပြည်အရပ်ရပ်တို့၌၊ မြို့
၅၃ ရှိသမျှတို့ကိုလည်း ဝိုင်းထားလိမ့်မည်။- ထိုသို့
ဝိုင်းထား၍၊ ရန်သူသည် ကျဉ်းကျပ်စေသော
အခါ၊ ကိုယ်ရင်သွေး တည်းဟူသော၊ သင်၏
ဘုရားသခင် ထာဝရဘုရား ပေးတော်မူသော
သားသမီးတို့၏ အသားကို သင်စားရလိမ့်မည်။-
၅၄ သင့်နေရာ မြို့တို့ကို ရန်သူ ဝိုင်းထား၍ ကျဉ်းကျပ်
၅၅ စေသော အခါ၊ အလွန် နူးညံ့ သိမ်မွေ့သော
ယောက်ျားသည်၊ စားစရာ အလျှင်း မကျန်ကြွင်း
သေးကြောင့်၊ မိမိသားတို့၏ အသားကို စားရ
သော်လည်း၊ မိမိညီအစ်ကို၊ မိမိရင်ခွင်၌ ရှိသော
မယား၊ ကျန်ကြွင်းသေးသော သားတို့ ထို့ကိုမ
နာလိုသော စိတ်ရှိ၍၊ ထိုအသားကို သူတို့အား မ
၅၆ ဝေမပေးဘဲ စားလိမ့်မည်။- သင့်နေရာ မြို့တို့ကို
၅၇ ရန်သူ ဝိုင်းထား၍ ကျဉ်းကျပ်စေသော အခါ၊ အ
လွန် နူးညံ့ သိမ်မွေ့သဖြင့်၊ မြေကို မနင်းဝံ့သော
မိန်းမသည်လည်း၊ စားစရာ အလျှင်း မရှိသေး
ကြောင့်၊ မိမိရင်ခွင်၌ ရှိသော လင်၊ မိမိသားသမီး၊
မိမိ ဝမ်းထဲက ထွက်သော အချင်း၊ မိမိ ဖွားမြင်
သော သူငယ်တို့ကို မနာလိုသော စိတ်ရှိ၍၊ မိမိသူ
၅၈ ငယ်ကို တိတ်ဆိတ်စွာ စားရလိမ့်မည်။- သင်၏
ဘုရားသခင် ထာဝရဘုရားသည်၊ ဘုန်းကြီး၍
ကြောက်မက်ဖွယ်သော နာမတော်ကို ကြောက်
ရွံ့ခြင်းငှါ၊ ဤကျမ်းစာ၌ ရေးထားသော၊ ဤ
တရားတော် စကား အလုံးစုံတို့ကို သင်သည် မ
၅၉ ကျင့်မစောင့်ဘဲ နေလျှင်၊- ထာဝရဘုရားသည်၊
သင်ခံရသော ဘေး၊ သင့်အမျိုး၊ အနွယ်ခံရသော
ဘေးတို့ကို၊ အံ့ဩဖွယ်သော ဘေး၊ အလွန်
ကြီး၍ မြဲမြံသော ဘေး၊ အလွန်ပြင်း၍ မြဲမြံသော
၆၀ ရောဂါဝေဒနာ ဖြစ်စေတော်မူမည်။- ထိုမှတပါး
သင် ကြောက်တတ်သော အဲဂုတ္တုပြည်၏ အနာ
ရောဂါ ရှိသမျှတို့ကို၊ သင့်အပေါ်မှာ သက်ရောက်
စေတော်မူသဖြင့်၊ သင်၌ ထိုအနာရောဂါတို့သည်
၆၁ စွဲကပ်ကြလိမ့်မည်။- ထိုမှတပါး ဤ ပညတ်
ကျမ်းစာ၌ ရေး၍ မထားသော အနာရောဂါ ဘေး
ဥပါဒ်ရှိသမျှတို့ကို၊ သင်သည် မပျက်စီး မှီတိုင်
အောင်၊ သင့်အပေါ်မှာ ထာဝရဘုရား သက်
၆၂ ရောက်စေတော်မူမည်။- သင်သည် အရေအ
တွက်အားဖြင့် မိုဃ်းကောင်းကင် ကြယ်ကဲ့သို့
များသော်လည်း၊ သင်၏ ဘုရားသခင် ထာဝရ
ဘုရား၏ စကားတော်ကို နား မထောင်သော
၆၃ ကြောင့်၊ နည်းနည်း ဖြစ်ရလိမ့်မည်။- သင့်ကို
ကျေးဇူးပြု၍ များပြားစေသော အမှု၌၊ ထာဝရ
ဘုရား ပျော်မွေ့တော်မူသည် နည်းတူ၊ တဖန် သင့်
ကို ဖျက်ဆီး၍ အကျိုးနည်းစေရာ အမှု၌ ပျော်မွေ့
တော်မူသဖြင့်၊ သင်သွား၍ ဝင်စားလတံ့သော
ပြည်ထဲက၊ သင်သည် နုတ်သင် ပယ်ရှင်းခြင်း
၆၄ သို့ ရောက်ရလိမ့်မည်။- ထာဝရဘုရားသည်

ထည်း၊ မြေကြီးစွန်းတဖက်မှသည်တဖက်တိုင်အောင်၊လူမျိုးပေါင်းတို့တွင်သင့်ကိုအရပ်ရပ်ကွဲပြား စေတော်မူသဖြင့်၊ သင်နှင့်သင့်ဘိုးဘေးတို့မသိဘူးသော၊ အခြား တပါး သော ဘုရား၊ သစ်သားဘုရား၊ ကျောက်ဘုရားတို့ကိုဝတ်ပြုရ
၆၅ လိမ့်မည်။-ထိုလူမျိုးတို့တွင်သင်သည်သက်သာခြင်းမရှိရာ၊နေရာမကျရာ၊နှစ်လုံးတုန်လှုပ်ခြင်း၊ မျက်စိမျှော်၍အားကုန်ခြင်း၊ ဝမ်းနည်းခြင်းအကြောင်းကိုထာဝရဘုရားစီရင်တော်မူသဖြင့်၊-
၆၆ သင်သည်အသက်ဆုံးလုသည်ဖြစ်၍၊နေ့ ညည့်မပြတ် မိုးရိမ်လျက်၊ သေဘေးနှင့် လွတ်မည်မ
၆၇ လွတ်မည်ကိုမသိဘဲလျက်နေရလိမ့်မည်။-သင်၏ စိတ် နှစ်လုံး ထဲ မှာ ကြောက် ရွံ့ ရ သောအကြောင်း၊ သင့် မျက် စိ နှင့် မြင် ရ သော အ ရာကြောင့်၊ နံနက်အချိန်၌သင်က၊ ညည့်ရောက်ပါစေဟု၍၎င်း၊ညည့်အချိန်၌နံနက်ရောက်ပါစေဟု
၆၈ ၍၎င်းဆုတောင်းရလိမ့်မည်။- ထိုလမ်းကိုနောက်တဖန်သင်မမြင်ရဟုမိန့်တော်မူသောလမ်းဖြင့်၊ ထာဝရဘုရားသည် တဖန်သင့်ကိုအဲဂုတ္တုပြည်သို့သင်္ဘောနှင့်ပို့ဆောင်တော်မူသဖြင့်၊ ထိုပြည်တွင် ကျွန်ယောက်ျား၊ ကျွန်မိန်း ဖြစ်စေ ခြင်းငှါ၊ ရန်သူတို့၌ ရောင်းကြလိမ့်မည်၊ သို့ရာတွင်၊ အဘယ်သူမျှ သင့်ကို မဝယ်လိုဟု၊ ဣသရေလလူများတို့ကိုဟောပြောထေ၏။

၂၉

၁ ဤနေ့ကား၊ ဟောရပ်အရပ်၌ ထာဝရဘုရားသည် ဣ သ ရေ လ အမျိုး နှင့် ပြုတော် မူ သော ပဋိညာဉ်မှတပါး၊ မောဘပြည်၌ မောရှေသည် ထိုလူမျိုးနှင့်ပဋိ ညာဉ် ပြုစေ ခြင်းငှါ၊ ထာ ဝ ရ ဘုရား မှာထား တော် မူ သော ပဋိညာဉ် စကားတော်ဖြစ်သတည်း။
၂ တဖန် မောရှေသည် ဣသရေလ အမျိုး သားအပေါင်းတို့ကို ခေါ်၍၊ ထာဝရ ဘုရားသည် အဲဂုတ္တုပြည်မှာ ဖာရောဘုရင်၌၎င်း၊ သူ၏ ကျွန်အပေါင်းတို့၌၎င်း၊ သူ၏ပြည် တရှောက်လုံး၌ ၎င်း၊ သင်တို့ မျက်မှောက်တွင် ပြုတော် မူသမျှ တည်း
၃ ဟူသော၊- ကိုယ်မျက် စိနှင့် မြင်သော၊ အလွန်ကြီးစွာသောစုံစမ်းခြင်းအမှု၊ အလွန်ကြီး[illegible]သောနိမိတ် ထူးဆန်း သော တန်ခိုး များ
၄ ကိုသင်တို့သည် မြင်ရကြပြီ။- သို့သော်လည်း၊ နားထည် နိုင်သောနှစ်လုံး၊ မြင်နိုင်သော မျက်စိ၊ ကြား နိုင် သော နား ထို့ကိုယနေ့တိုင်အောင်၊

၅ ထာဝရဘုရားသည်ပေးတော်မမူသေး။- အနှစ်လေး ဆယ် ပတ် လုံး သင် တို့ ကို တော ၌ ငါ ပို့ဆောင်တော်မူပြီ၊ သင်တို့အဝတ်သည်မဟောင်းမနွမ်း၊ သင်တို့စီးသောခြေနင်းထည်း မပွတ်။-
၆ သင်တို့သည်မုန့်ကိုမစား၊ စပျစ်ရည်နှင့်သေရည်သေရက်ကို မသောက်ဘဲ နေသောကြောင့်၊ ထာ ဝ ရ ဘုရား သည် သင် တို့ ၏ ဘုရား သ ခင် ဖြစ်
၇ ကြောင်းကို သိရ၏။- သင်တို့သည် ဤ အရပ် သို့ ရောက်သောအခါ၊ ဟေရှဘုန်မင်းဘုရင်ရှိဟုန်၊ ဗာရှန် မင်း ဘုရင် ဩဃ တို့သည် ငါ တို့ ကို စစ် တိုက်ခြင်းငှါထွက်လာသဖြင့်၊ ငါတို့သည်သူတို့
၈ ကို လုပ်ကြ၍၊- သူတို့ ပြည်ကို သိမ်းယူ ပြီးမှ၊ ရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေအမျိုး တဝက်၌
၉ ပေး ထေ၏။- သို့ဖြစ်၍၊ သင် တို့ ပြုလေ ရာရာ၌ အောင်နိုင်မည် အကြောင်း၊ ဤပဋိညာဉ်စကားတို့ကိုစောင့်ရှောက်၍ကျင့်ကြလော့။
၁၀-၁၃ သင်၏ဘုရားသခင်ထာဝရဘုရား သည်သင်နှင့်ယနေ့ ပြုတော်မူသောသစ္စာကိုသင်ဝင်ခံ၍၊ သင်၏ ဘုရား သခင်ထာဝရဘုရားနှင့် ပဋိညာဉ်ပြုခြင်းငှါ၎င်း၊ သင့်ကိုကိုယ်တော်၏ လူမျိုးအရာ၌ယနေ့ခန့် ထားတော်မူစေခြင်းငှါ၎င်း၊ အထက်ကမိန့်တော်မူ၍၊သင်၏အဘအာဗြဟံ၊ ဣဇာက်၊ ယာကုပ် တို့အား ကျိန်ဆိုတော်မူသည်အတိုင်း၊ သင်၏ ဘုရား သခင် ဖြစ်တော် မူ စေခြင်းငှါ ၎င်း၊ သင်တို့အမျိုးအနွယ်၏အကဲအမှူး၊အသက်ကြီးသူ၊ မင်းအရာရှိ၊ ဣသရေလအမျိုး ယောက်ျား၊ မိန်းမ၊ သူငယ်၊ ထင်းခုတ်သောသူ၊ ရေခပ်သောသူမှစ၍ တပ်၌ ရှိသမျှ သော သူတို့ သည်၊ သင်တို့ဘုရားသခင်ထာဝရဘုရားရှေ့တော်၌ ယနေ့ရပ်
၁၄ နေကြ၏။-ထိုမှတပါး၊ ဤပဋိညာဉ်၊ ဤသစ္စာကို
၁၅ သင်တို့ နှင့် သာ ငါပြု သည် ထက် မက၊- ငါတို့ဘုရားသခင်ထာဝရဘုရားရှေ့တော်၌ယနေ့ရပ်နေသောသူတို့နှင့်၎င်း၊ငါတို့တွင်ယနေ့မပါသေး
၁၆ သူတို့နှင့်၎င်းငါပြု၏။- သင်တို့သည်အဲဂုတ္တုပြ[illegible]၌နေပေါင်းဖော်သောသူ၊ ခရီးသွား၍လမ်း၌ တွေ့
၁၇ ကြုံ သော လူမျိုးတို့ကို သင် တို့ သိကြ၏။-သူတို့၌ရှိသော၊ စက်ဆုပ် ရွံရှာဖွယ်သောသစ်သားရုပ်တု၊ ကျောက်ရုပ်တု၊ ရွှေရုပ်တု၊ ငွေရုပ် တုတို့ကို
၁၈ မြင်ကြပြီ။- ငါတို့ဘုရားသခင်ထာဝရဘုရားထံတော်မှ လွှဲရှောင် ချင်သော သဘော ရှိလျက်၊ ထိုလူမျိုးတို့၏ဘုရားများထံသို့သွား၍ ဝတ်ပြုသော ယောက်ျား၊ မိန်းမ၊ အဆွေအမျိုး၊ အနွယ်

သည်သင်တို့တွင် ပါမည်ဟူ၍၎င်၊ ခါးသောအသီး၊ ဒေါနထို အသီးထွက်သော အပင်မြစ်
၁၉ သည်သင်တို့တွင် ပေါက်မည်ဟူ၍၎င်း၊– ထိုသို့သောသူသည်ဤကျိန်ခြင်းစကားကိုကြားသောအခါ၊ မိတ်ခိုင်မာသည် အတိုင်း၊ ငါကျင့်၍ ရေတော်ခြင်းအပေါ်၌ငတ်မွတ်ခြင်းကိုထပ်ဆင့်သော်လည်း၊ ချမ်းသာရမည်ဟု မိတ်ထဲမှာ ကိုယ်ကိုကိုယ်ကောင်းကြီးပေးမည်ဟူ၍၎င် မိုးရိပ်စရာ
၂၀ ရှိ၏။–ထိုသူကိုထာဝရဘုရားနှစ်မြေ့တော်မမူ။ အပြစ်ရှိသည်ဟု ထင်လွယ်သောမိတ်၊ အမျက်တော် အမျက် မီးခိုး ထွက်၍၊ ဤကျမ်း စာ၌ ရေးထားသော အမင်္ဂလာ ရှိသမျှ တို့သည် ထိုသူအပေါ်မှာ တည်နေ ကြလိမ့်မည်၊ ထာဝရ ဘုရားသည်သူ၏အမည်ကိုမိုဃ်းကောင်းကင်အောက်
၂၁ ၌ချေတော် မူလိမ့်မည်။– ဤပညတ်တို ကျမ်းစာ၌ ရေးထား သော ပဋိညာဉ် အမင်္ဂလာ ရှိသမျှတို့နှင့်အညီ၊ ထိုသူကိုဣသရေလအမျိုးအနွယ်အပေါင်းတို့ထဲက၊ ထာဝရ ဘုရားနှုတ်၍၊ အပြစ်
၂၂ ပေးခြင်းငှါရွေးထားတော် မူလိမ့်မည်။– သူနေရာအ
၂၃ ရပ်၌ ထာဝရဘုရား စီရင်ခတ်တော်မူသောအနာရောဂါဘေးဥပါဒ်တို့ကို၎င်၊ ထာဝရဘုရားသည်ဒေါသအမျက်တော်ထွက်၍၊ မှောက်လှန်တော်မူသောသောဒုံမြို့၊ ဂေါမောရမြို့၊ အာဒမာမြို့၊ ဇေဘိုင်မြို့တို့ပြိုပျက်ရာကဲ့သို့၊တပြည်လုံးကိုကန့်နှင့် မီးကျွမ်းသောင်သောဆားသက်သက်ဖြစ်၍၊ မျိုးစေ့မကြဲ၊ အသီးအနှံမသီး၊ မြက်ပင်မပေါက်ကြောင်းကို၎င်၊ သင်တို့နောက်မှာ ဖြစ်ထတ်သော သင်တို့အမျိုးသား၊ ဝေးသောအရပ်မှ ထာသော တပါး အမျိုးသား တို့ သည် မြင်ကြ
၂၄ သော အခါ၊– ထာဝရဘုရားသည် ဤပြည်၌ အထယ်ကြောင့် ဤသို့ပြုတော်မူသနည်း။ ဤပြင်းစွာသော အမျက်တော် အမျက်ကား၊ အဘယ်သို့နည်း ထု၊ ထု အ မျိုးမျိုး တို့ သည် မေးမြန်း ကြ
၂၅ လျှင်၊– သူတပါးတို့က၊ ထိုသူတို့၏ ဘိုးဘေးတို့ကိုးကွယ် သော ဘုရား သခင် ထာ ဝ ရ ဘုရားသည်သူတို့ကိုအဲဂုတ္တုပြည်မှ နှုတ်ဆောင်သောအခါ၊ သူ တို့ နှင့် ဖွဲ့ တော် မူသော ပဋိ ညာဉ်ကို
၂၆ သူတို့သည် စွန့်ကြသောကြောင့်၎င်၊– အထက်ကသူတို့မသိ၊ သူတို့အား အထယ်အရာကိုမျှ မပေးသော၊ အခြား တပါးသော ဘုရားတို့အား
၂၇ ဝတ်ပြုကိုးကွယ် ကြသော ကြောင့်၎င်၊– ဤမည်သော ကျမ်းစာ၌ ရေးထား သော အ မင်္ဂ လာ ရှိ

သမျှ တို့ကို၊ ဤ ပြည်၌ ထင့် ရောက် စေခြင်း ငှါ၊ ထာဝရဘုရားသည် အမျက်တော်ထွက်သဖြင့်၊–
၂၈ ပြင်း စွာ သော ဒေါသ အမျက် အမျက်အားကြီးလျက်၊ သူတို့ပြည်ထဲက၊ သူတို့ကို နှုတ်ပယ်၍၊ ယနေ့ ထိုင်ဆောင် အခြား တပါးသော ပြည်သို့နှင်ထုတ် တော်မူ သည် ဟု ပြန် ပြော ကြ လိမ့်
၂၉ မည်။– မထင်ရှား သော အရာ တို့ သည်၊ ငါတို့ဘုရားသခင်ထာဝရဘုရား၏အနေအထားဖြစ်ကြ၏၊ ဖော်ပြတော် မူသောအရာတို့သည်၊ကာလအစဉ် မပြတ် ငါတို့နှင့် ငါတို့ သားသမီးများတို့၏ အနေ အ ထား ဖြစ် ၍၊ ဤ ပညတ် တရား စကား အလုံး စုံတို့ကို ဆောင့် ရွောက် ရ မည် အကြောင်းတည်း။

၃၀

၁ သင့် ရှေ့၌ ငါ ထား၍ အ ထက် ဆို ခဲ့ ပြီး သမျှသောအရာတည်းဟူသော၊ကောင်းကြီးမင်္ဂလာနှင့်ကျိန်ခြင်းအမင်္ဂလာတို့သည် သင့်အပေါ်မှာရောက်၍၊ သင်၏ ဘုရား သခင် ထာဝရ ဘုရားသည်သင့်ကိုနှင်ထုတ်တော်မူရာအပြည်ပြည်တို့
၂ ၌ထိုအရာတို့ကိုအောင်းမေ့လျက်၊–သင်၏ဘုရားသခင် ထာဝရဘုရား ထံတော်သို့ ပြန်လာ၍၊ ယနေ့ငါမှာ ထားသမျှအတိုင်း၊ သင်နှင့် သားသမီးတို့သည်စကားတော်ကို မိတ်နှစ်လုံး အကြွင်းမဲ့
၃ နား ထောင်လျှင်၊– သင်၏ ဘုရား သခင် ထာဝရ ဘုရားသည်၊သင်ခံရသောသိမ်းသွားခြင်းအမှုကိုကုန်စေမည်အကြောင်း၊သင့်ကိုသနားသဖြင့် တဖန်ပြန်လာ၍၊ အယင်ကအရပ်ရပ်နှင်ထုတ်ရာအပြည်ပြည်တို့မှသိမ်းယူတော်မူလိမ့်မည်။–
၄ သင်၏ လူ အ ရှို တို့ သည် မိုဃ်း ကောင်း ကင်အောက်၊ အဝေး ဆုံး သော အ ရပ် သို့ နှင် ထုတ်ခြင်းကိုခံရသော်လည်း၊ ထိုအရပ်မှသင်၏ဘုရားသခင် ထာဝရ ဘုရား သိမ်းယူ ဆောင် ခဲ့ တော်မူ
၅ လိမ့်မည်။–ဘိုးဘေးတို့ဝင်စားသောပြည်သို့တဖန်ဆောင်ခဲ့တော်မူသဖြင့်၊ သင်သည်ဝင်စားရလိမ့်မည်၊ထိုအခါကျေးဇူးပြုတော်မူပြန်သဖြင့်၊ ဘိုး ဘေး များ တို့ ထက် သင့် ကို သာ၍ များစေ
၆ တော် မူလိမ့်မည်။– သင် သည် အသက် ရှင်မည့်အကြောင်း၊ သင်၏ ဘုရား သခင် ထာဝရဘုရားကိုမိတ်နှစ်လုံးအကြွင်းမဲ့ ချစ်စေခြင်းငှါ၊ ထင်နှစ်လုံး နှင့် သင့် အမျိုး၏ နှစ်လုံး အရေ ဖျားကို အွှိုး
၇ ဖြတ်တော် မူလိမ့်မည်။– သင်၏ ရန်သူတည်းဟူသော၊ သင့်ကိုရန်း၍ညှဉ်းဆဲသောသူတို့အပေါ်

၌လည်း၊အထက်ဆိုခဲ့ပြီးသောကျိန်ခြင်းအမင်္ဂ
လာရှိ သမျှ တို့ကို သက်ရောက် စေတော် မူလိမ့်
၈ မည်။-သင်သည်ပြန်လာလျက်၊ထာဝရဘုရား၏
စကားတော်ကိုနားထောင်၍၊ ယနေ့ ငါမှာထား
သမျှသောပညတ်တော်တို့ကိုစောင့်ရှောက်လိမ့်
၉ မည်။- သင် သည် သင် ၏ ဘုရား သခင် ထာဝရ
၁၀ ဘုရား၏စကားတော်ကိုနားထောင်၍၊ဤပညတ်တ
ကျမ်းစာ၌ ရေးထား သော စီရင်ထုံး ဖွဲ့တော်မူ
ချက်တို့ကိုစောင့်ရှောက်လျှင်၎င်း၊ သင်၏ဘုရား
သခင်ထာဝရဘုရား ထံတော်သို့စိတ်နှစ်လုံးအ
ကြွင်းမဲ့ပြန် လာ လျှင်၎င်း၊ သင် ပြု လေ ရာရာ၌
အောင်မည်အကြောင်းနှင့်၊ သင်၏သားဦး၊တိ
ရိစ္ဆာန်၊ အသီး အနှံ တိုး ပွား များပြားမည်အ
ကြောင်းကို စီရင်၍၊ သင့်အကျိုးကို ပြုစုတော်မူ
လိမ့်မည်၊ ထာဝရဘုရားသည် သင်၏ဘိုးဘေး
တို့၌အားရဝမ်းမြောက်သကဲ့သို့၊သင်၌အားရ
ဝမ်းမြောက်၍၊သင့်အကျိုးကို ပြုစုတော်မူလိမ့်
မည်။
၁၁ ယနေ့ ငါမှာထား သော ပညတ် တရား တော်
သည်၊သင်နားမလည်နိုင်သောတရားမဟုတ်။-
၁၂ သင်နှင့်ဝေးသည်မဟုတ်၊တရားတော်ကိုငါတို့
သည်နားထောင်၍စောင့်ရှောက်မည်အကြောင်း၊
ကောင်းကင်သို့ အ တယ်သူ တက် ၍၊ ငါတို့ ထံ
သို့ဆောင်ခဲ့ လိမ့် မည်နည်းဟု မေးစေ ခြင်းငှါ၊
၁၃ ကောင်းကင်၌ရှိသည်မဟုတ်၊- တရားတော်ကို
ငါတို့သည် နားထောင်၍ စောင့်ရှောက် မည်အ
ကြောင်း၊ ပင်လယ်ကို အဘယ်သူကူး၍၊ ငါတို့
ထံသို့ဆောင်ခဲ့လိမ့်မည်နည်းဟုမေးစေခြင်းငှါ၊
၁၄ ပင်လယ်တဖက်၌ရှိသည်မဟုတ်။-တရားတော်
သည် သင်စောင့် ရှောက်မို့ရာ သင် နှင့် အလွန်နီး
၏၊ သင်၏ နှုတ်၌၎င်း၊ သင်၏နှစ်လုံး၌၎င်း ရှိ၏၊-
၁၅ ကြည့် ပါ တော့၊ အသက် ရှင်ခြင်း ချမ်း သာ နှင့်
သေခြင်းဆင်းရဲ တို့ကို၊သင့်ရှေ့မှာယနေ့ငါထား
၁၆ ၏။- သင် သည် အသက် ရှင်၍ တိုး ပွား မည်အ
ကြောင်းနှင့်၊သင်ဝင်စား၊လတံ့သောပြည်၌၊သင်
၏ ဘုရား သခင် ထာ ဝရ ဘုရား သည်၊ သင့် ကို
ကောင်းကြီးပေးတော်မူမည်အကြောင်း၊ သင်၏
ဘုရားသခင်ထာဝရဘုရားကို ချစ်သဖြင့်နောက်
တော် သို့ လိုက် ၍၊ စီ ရင် ထုံး ဖွဲ့ တော် မူ ချက်၊
ပညတ် တရား တော်တို့ကို စောင့်ရှောက် လော့
၁၇ ဟု၊ ငါမှာ ထား၏။- သို့ မဟုတ်၊ သင့် နှစ်လုံး လွှဲ
သွားသဖြင့်၊ သင်သည်နားမထောင်ဘဲသူတပါး
ဘွေး ဆောင်ရာသို့ လိုက်၍၊ အခြား တပါးသော
၁၈ ဘုရားတို့ကို ဝတ်ပြု ကိုးကွယ် လျှင်၊- ယော်ဒန်
မြစ်ကိုကူး၍ ဝင်စား လတံ့သောပြည်၌ အသက်
တာမရှည်၊ ဧကန် အမှန် ပျက်စီး ခြင်းသို့ ရောက်
၁၉ လိမ့်မည်ဟု၊ယနေ့ငါသတိပေး၏။- အသက်ရှင်
ခြင်း၊သေခြင်း၊ကောင်းကြီးပေးခြင်း၊ ကျိန်ခြင်း
တို့ကို သင့်ရှေ့၌ငါထားသည်ဟု၊ သင့်တဖက်၌
ကောင်းကင်မြေကြီးကိုငါတိုင်တည်၏။
၂၀ ထိုမြစ်၍၊သင်နှင့်သင့်အမျိုးအနွယ်သည်အ
သက်ရှင်မည် အကြောင်း နှင့်၎င်း၊ သင်၏ဘုရား
သခင် ထာဝရ ဘုရားကို ချစ်၍၊ စကား တော်ကို
နားထောင်သဖြင့်၊ အသက်ရှင်ခြင်း အကျိုး၊ အ
သက်တာရှည်ခြင်းအကျိုး ကိုပေးတော်မူသော
ကိုယ်တော်ကိုဆည်းကပ်မှီဝဲမည်အကြောင်းနှင့်
၎င်း၊ ထာဝရဘုရားသည် သင်၏ ဘိုးဘေးအာဗြ
ဟံ၊ ဣဇာက်၊ ယာကုပ်တို့အား ကျိန်ဆို တော်မူ
သော ပြည်၌ နေမည် အကြောင်းနှင့် ရှည် သော
အသက် တရားကို ရွေးယူလော့ဟု၊ ဣသ ရေလ
အမျိုးအားဟောပြော၏။

၃၁

၁ တဖန်မောရှေသည်သွား၍၊ ဣသရေလအမျိုး
သား အပေါင်းတို့အား ဟောပြောသည် ကား၊-
၂ ငါသည် ယနေ့ အသက် တရာ နှစ် ဆယ် ရှိပြီ။
သင်တို့ ရှေ့မှာ ထွက်ဝင် ခြင်းငှါ နောက် တဖန်မ
တတ်နိုင်။ ထာ ဝရ ဘုရား ကလည်း၊ သင် သည်
၃ ယော်ဒန်မြစ်ကိုမကူးရဟုမိန့်တော်မူပြီ။-သင်တို့
၏ ဘုရားသခင် ထာဝရဘုရား သည် သင်တို့ ရှေ့
မှာကူး၍၊ ထိုပြည်သားအမျိုးမျိုးတို့ကိုဖျက်ဆီး
တော် မူသဖြင့်၊ သူတို့ နေရာကို သင်တို့ ဝင် စားရ
ကြလိမ့်မည်။ထာဝရဘုရားအမိန့်တော်အတိုင်း၊
ယောရှု သည် လည်း သင် တို့ရှေ့ မှာ ကူး ရ လိမ့်
၄ မည်။- ထာဝရ ဘုရားသည် လည်း၊ အာမောရိ
ရှင်ဘုရင် ရှိ ဟုန် နှင့် ဩဃ တို့ ၌ ၎င်း၊ ဖျက် ဆီး
တော်မူသောသူတို့ပြည်၌၎င်းပြုသကဲ့သို့၊ထိုပြည်
၅ သား အမျိုးမျိုးတို့၌ ပြုတော် မူလိမ့်မည်။- ထာ
ဝရဘုရားသည်သူတို့ကိုသင်တို့၌ အပ်တော်မူသ
ဖြင့်၊ ငါမှာထားသမျှသော ပညတ်တို့ အတိုင်း၊
၆ သူတို့၌ပြုရကြလိမ့်မည်။-အားယူ၍၊ရဲရင့်ခြင်း
ရှိကြလော့။မစိုးရိမ်ကြနှင့်၊ သူတို့ကိုမကြောက်
ကြနှင့်၊ထာဝရဘုရားသည်သင်တို့ဘုရားသခင်
ဖြစ်၍၊ သင် တို့နှင့် အတူ ကိုယ် တိုင် ကြွ တော်မူ
မည်၊သင်တို့ကိုစွန့်တော်မမူ၊ပြစ်ထားတော်မမူ

၇ ထိုနောက်မောရှေသည်၊ ယောရှုကိုခေါ်၍၊ ထင်
ထင်ရှားရှားထား၍၊ ရဲရင့်ခြင်းရှိလော့၊ အကြောင်းမူ
ကား၊ ထာဝရဘုရားသည်ဤလူတို့အားပေးခြင်း
ငှါ၊ ထိုးသေူတို့အားကျိန်ဆိုတော်မူသောပြည်
သို့၊ သင်သည် သူတို့နှင့်အတူ သွား၍၊ အမွေခံစေ
၈ ရမည်။- ထင့်ရှေ့မှာ ထာဝရ ဘုရားသည် ကိုယ်
တိုင်ကြွ၍၊ ထင်နှင့်ရှိတော် မူလိမ့်မည်။ သင့်ကို
စွန့်တော်မမူ၊ ပြစ်ထား တော်မမူ။ မမိုးရိမ်နှင့်၊
စိတ် မပျက် နှင့်ဟု၊ ဣသ ရေလ အမျိုး သားအ
ပေါင်းတို့ရှေ့မှာပြောဆို၏။
၉ ဤပညတ်တရားကိုမောရှေသည်ရေးထား၍၊
ထာဝရဘုရား၏ပဋိညဉ်သေတ္တာတော်ကိုထမ်း
သောလေဝိသား ယဇ်ပုရောဟိတ်များ၊ ဣသရေ
လအမျိုး၏ အသက်ကြီးသူများ အပေါင်းတို့၌အပ်
၁၀ ၍၊- မှာထားသည်ကား၊ ခုနှစ်နှစ်စေ့၍၊ ကြွေး
များကိုလွှတ်ခြင်းငှါ ချိန်းချက်သောနှစ်၊ သကေ
၁၁ ရုပ်ခွဲခံမှိန်ရောက်မှ၊- သင်တို့၏ ဘုရားသခင်ထာ
ဝရဘုရားရွေးကောက်တော်မူလတံ့သောအရပ်
တွင်၊ ဣသရေလ အမျိုးသား အပေါင်းတို့သည်
ရှေ့တော်၌ ကိုယ်ကိုပြခြင်းငှါ လာကြသော အ
ခါ၊ ဤပညတ် တရားကို ထိုပရိသတ် အပေါင်း
၁၂ ထို့ရှေ့မှာဖတ်ရွတ်ရမည်။- ယောကျ်ား၊ မိန်းမ၊ သူ
ငယ်များ၊ ထည်းမိုသောတပါးအမျိုးသားများ
တို့ သည် ကြား၍ နား ထည် သ ဖြင့်၊ သင် တို့၏
ဘုရားသခင်ထာဝရဘုရားကို ကြောက်ရွံ့၍၊ ဤ
ပညတ်တရားစကားအလုံးစုံတို့ကိုစောင့်ရှောက်
စေခြင်းငှါ၊ ပရိသတ်တို့ကိုစုဝေးစေကြလော့။-
၁၃ ထိုသို့ပြုလျှင်၊ နားမထည်သေးသော သူငယ်တို့
သည် ကြား သဖြင့်၊ သင်တို့ သည် ယော်ဒန်မြစ်
ကိုကူး၍ ဝင်စားထတံ့သောပြည်၌နေသည်ကာ
လပတ်လုံး၊ သင်တို့ဘုရားသခင် ထာဝရဘုရား
ကိုကြောက်ရွံ့စေခြင်းငှါ သင်ကြလိမ့်မည်ဟုမှာ
ထားလေသည်။
၁၄ ထာဝရဘုရားကလည်း၊ သင် သည် သေရ
သော အချိန်နီးပြီ။ ယောရှုကိုခေါ်၍၊ ပရိသတ်
စည်းဝေးရာတဲတော်သို့ချည်းကပ်လော့၊ သူ့ကို
ငါမှာ ထားမည် ဟု၊ မော ရှေ အား မိန့် တော်မူ
သည်အတိုင်း မောရှေနှင့်ယောရှုသည်သွား၍၊
၁၅ ပရိသတ်စည်းဝေးရာတဲတော်သို့ချည်းကပ်ကြ
၏။- ထာ ဝရ ဘုရား သည် တဲ တော် တွင် မိုဃ်း
တိမ်တိုင်၌ ထင်ရှား တော်မူ၍၊ မိုဃ်းတိမ် တိုင်
သည် တဲတော် တံခါးဝ အပေါ်မှာ တည်နေ၏။-
၁၆ ထာဝရဘုရားကလည်း၊ မောရှေအားသင်သည်
ဘိုးဘေးတို့နှင့်အိပ်ပျော်သောအခါ၊ ဤလူမျိုး
သည်ထ၍ ယခုသွားသော ပြည်၌ နေသော၊ ထ
ပါးအမျိုးသားကိုးကွယ်သောဘုရားတို့နှင့်မှား
ယွင်း၍၊ ငါ့ကိုစွန့်လျက်၊ ငါဖွဲ့ထားသောပဋိညဉ်
၁၇ တရားကို ဖျက်လိမ့်မည်။- ထိုအခါ ငါသည်အ
မျက် တော်ထွက်၍၊ သူတို့ကိုစွန့်မည်။ သူတို့မှငါ
မျက်နှာ ကို လွှဲ သဖြင့်၊ သူတို့ သည် ပျက် စီး၍၊
ဘေးဥပဒ်ရန်မာန် အပေါင်းတို့နှင့် တွေ့ကြုံကြ
လိမ့်မည်။ ထိုအခါ သူတို့က၊ ငါတို့ဘုရား သခင်
ထဲ၌ငါတို့တွင်ရှိတော်မမူသောကြောင့်၊ ဤဘေး
ဥပဒ် တို့သည် ငါတို့ အပေါ်မှာ ရောက်သည် မ
၁၈ ဟုတ်လော ဟု ဆိုကြလိမ့်မည်။- သူတို့သည်အ
ခြားတပါးသောဘုရားတို့နောက်သို့ လွှဲ သွား၍
ပြုသောဒုစရိုက်အပေါင်းတို့ကြောင့်၊ ထိုအခါငါ
၁၉ သည်ကိုယ်မျက်နှာကိုကေန်အမှန်လွှဲမည်။- သင်
မှာစနွှသီခြင်းကိုရေးထားကြလော့၊ ထိုသီခြင်း
ကို ဣသရေလ အမျိုး တဖက်၌ ငါ့အဖို့ သက်သေ
ဖြစ်စေခြင်းငှါ၊ သူ တို့ သည် နှုတ်ကျက်ရအောင်
၂၀ သင်ပေးကြလော့။- အကြောင်းမူကား၊ သူတို့
၏ ဘိုးဘေး တို့အား ငါ ကျိန်ဆို၍၊ နို့နှင့်ပျား
ရည်စီးသောပြည်သို့သူတို့ကိုငါဆောင်သွင်းသ
ဖြင့်၊ သူတို့သည်ဝစွာစား၍ သူဖြိုးသောအခါ၊
အခြားတပါးသော ဘုရားတို့ထံသို့ လွှဲ သွား၍
ဝတ်ပြုကြလိမ့်မည်။ ငါ့ကိုပုန်ကန်၍၊ ငါ့ပဋိညဉ်
၂၁ တရား ကို ဖျက် ကြ လိမ့်မည်။- ဘေးဥပဒ် ရန်
မာန် အပေါင်း တို့နှင့် တွေ့ကြုံ သောအခါ၊ ထိုသီ
ခြင်းသည်သူ့တို့တဖက်၌ သက်သေခံလိမ့်မည်။
သူတို့အမျိုးအနွယ်သည် နှုတ်ကျက်မမေ့လျော့
ရ။ ငါကျိန်ဆိုသောပြည်သို့ ငါဆောင်၍ မသွင်း
မှီ၊ ထိုအရပ်သူတို့ ကြံစည်သောအကြံအစည်ကို
၂၂ ငါသိ၏ဟု မိန့်တော်မူ၏။- မောရှေသည် ထည်း၊
ထိုနေ့၌ထိုသီခြင်းကိုရေးထား၍၊ ဣသရေလအ
၂၃ မျိုးသားတို့အား သင်ပေး၏။- တဖန်နုန်၏သား
ယောရှုအား ထာဝရဘုရားက၊ သင်သည်အား
ထူ၍၊ ရဲရင့်ခြင်းရှိလော့။ ငါကျိန်ဆိုသော ပြည်
သို့၊ ဣသရေလ အမျိုးသားတို့ကိုဆောင်သွင်းရ
မည်။ ငါသည် သင်နှင့် အတူ ရှိမည်ဟု မှာထား
တော်မူ၏။
၂၄ မောရှေသည်၊ ဤပညတ်တရားစကားတော်အ
၂၅ လုံးစုံတို့ကို အကုန်အစင် ရေးထားပြီးမှ၊- ထာ
ဝရ ဘုရား၏ ပဋိ ညဉ် သေတ္တာ တော်ကို ထမ်း

၃၆ သောသေဝိသားထိုကိုဒေါ်၍၊-ဤပညတ္တိကျမ်း၊
စာသည်ဆင်ထို့ အမျိုး တဖက်၌ သက် သေဖြစ်
မည့် အကြောင်း၊ ထိုစာကို ယူ၍၊ သင်တို့ဘုရား
သခင်ထာဝရ ဘုရား၏ ပဋိညည်သစ်တာတော်
၃၇ အနား မှာ တင် ထား ကြလော့၊-သင်တို့ အမျိုး
သည်ပုန်ကန်တတ်သော သဘော၊ မိုင်မာ သော
သဘော ရှိကြောင်းကို ငါသိ၏၊ ငါ အသက် ရှင်
၍၊ ယင်တို့တွင် နေစည် အခါ၊ ယနေ့ ပင် သင် တို့
သည် ထာဝရ ဘုရားကို ပုန်ကန် ကြပြီ၊ ငါသေ
၃၈ သောနောက်၊ထိုမျှမက ပြု ကြလိမ့်မည်၊-သင်တို့
အမျိုး အနွယ် အသက် ကြီး သူ၊ အရာ ရှိ သူ အ
ပေါင်းတို့ကိုငထံမှာစုဝေးစေကြလော့၊ဤစကား
တို့ကို သူတို့ အား ဟောပြော၍၊ သူတို့တဖက်၌
၃၉ ကောင်းကင် မြေကြီးကို ငါတိုင်တည် မည်၊-အ
ကြောင်း မူကား၊ ငါ သေ သော နောက်၊ သင် တို့
သည် ထုံး ထုံး လောက် ပြန် ၍၊ ငါ မှာထား သော
ထမ်းမှ ဖွဲ့သွား ကြလိမ့်မည်ကို ငါသိ၏၊ နောင်
ကာလတွင်၊ ထာဝရ ဘုရား ရှေ့တော်၌ ဒုစရိုက်
ကိုပြု၍၊ ကိုယ် ထက် နှင့် လုပ်ဆောင်သောအား
ဖြင့်၊ အ မျက် တော်ကို နိုး ဆော် သော့ ကြောင့်၊
သင်တို့ သည် ဘေး ဥပါတ် နှင့် တွေ့ကြုံ ကြလိမ့်
မည်ဟုသတိပေးလေ၏။
၄၀ မောရှေသည် ဣသရေလပရိသတ်အပေါင်း
တို့အား အကုန် အစင် မြွက် ဆို သော သီချင်း စ
ကားဟူမူကား။

၃၂

၁ အို ကောင်းကင်၊ နား ထောင် လော့၊ ငါပြော
မည်။အိုမြေကြီး၊ငါမြွက်ဆိုသောစကားကိုကြား
၂ လော့။-ငါ ဒေသနာ သည် မိုဃ်း ရေ ကဲ့သို့ စက်
စက်ကျ၍၊ ငါစကားသည် နှင်းကဲ့သို့ ဖြည်းညှင်း
စွာသက်ရောက်လိမ့်မည်။နုသောပျိုးပင်ပေါ်မှာ
ရွာသော မိုဃ်းကဲ့သို့ ၎င်း၊ မြက် ပင်ပေါ်မှာ ရွာ
၃ သောမိုဃ်းရေကဲ့သို့၎င်း ဖြစ်လိမ့်မည်။-ငါ
သည်ထာဝရဘုရား၏နာမတော်ကိုဖော်ပြသည်
ဖြစ်၍၊ ငါတို့ ဘုရားသခင် ၏ ဘုန်း အာနုဘော်
၄ တော်ကိုချီးမွမ်းကြလော့။- ဘုရားသခင်သည်
မှုထ အမြစ်ဖြစ်၍၊ အမှုတော်သည် စုံလင်ပေ၏၊
ခရင်တော်မူသမျှ ထို့သည် တရား နှင့် ညီလျက်၊
သစ္စာ စောင့် သော ဘုရား၊ အပြစ် ကင်း လွတ်၍
ဖြောင့်မှန်ဖြောင့်မတ်သောဘုရားဖြစ်တော်မူ၏။-
၅ သူတို့သည် ယိုယွင်း ကြပြီ၊ ဘုရား သခင်၏ သား
စထုတ်၊ အညစ် အ ကြေး ကပ် ကြ ၏၊ သ ဘော

၆ ကောက်၍လောက်ပြန်သောအမျိုးဖြစ်ကြ၏။-ဗိုလ်
ပညာခဲ့သောလူမိုက်တို့၊ ထာဝရဘုရား၏ ကျေး
ဇူးတော်ကိုဤသို့ဆပ်မည်လော၊ထာဝရဘုရား
သည်သင့်ကိုဖြစ်စေသောအဖ၊သင့်ကိုဝန်ဆင်း၍၊
နေရာချသောသူဖြစ်တော်မူသည်မဟုတ်လော။-
၇ ရှေး ကာလ ကို အောင်း မေ့လော့၊လွန် လေ ပြီး
သောနှစ် ပေါင်းများကိုဆင်ခြင်လော့၊ သင့်အဖ
ကိုမေးမြန်းလျှင်၊ သူသည် ဖော်ပြလိမ့်မည်၊ အ
သက်ကြီး သူတို့ကို မေး မြန်း လျှင်၊ သူတို့ သည်
၈ ပြောဆို ကြလိမ့်မည်။- အမြင့်ဆုံး သော ဘုရား
သည်အာဝ်၏ အမျိုးအနွယ်ဖြစ်သောလူမျိုးတို့
ကိုပိုင်းခြား၍၊ အမွေမြေကို ဝေပေးသော အခါ၊
ဣ သရေလ အမျိုး သား တို့ အရေ အတွက် ကို
ထောက်ရှု၍၊လူမျိုးတို့နေရာအပိုင်းအခြားကိုခ
၉ ရင်တော်မူ၏။- ထာဝရဘုရား ၏ အဖို့ကား၊ လူ
မျိုးတော်တည်း၊ ယာကုပ် အမျိုးသည်အမွေခံ
၁၀ တော်မူရာ ဖြစ် သတည်း။- လူဆိတ်ညံ သောအ
ရပ်၊သားရဲမြည်၍၊လွတ်လပ်သောတောထွင်ပြင်
၌၊ယာကုပ်ကိုတွေ့တော်မူသောအခါ၊ဝန်းရံထိန်း
ကာခြင်း၊ သွန်သင် ခြင်း ကျေးဇူးကိုပြု၍၊ မျက်
၁၁ ဆန်တော် ကဲ့ သို့ စောင့်တော်မူ၏။- ရွှေလင်းတ
သည်အသိုက်ကိုမွှေလျက်၊သားငယ်တို့အပေါ်
မှာလှုပ် ရှားလျက်၊ အတောင် တို့ကို ဖြန့်လျက်၊
သားငယ်တို့ကိုယူ၍မိမိအတောင်တို့ဖြင့်ဆောင်
၁၂ သကဲ့သို့၊-ထာဝရဘုရားတပါးတည်းသာလျှင်၊
ယာကုပ်ကို ဆောင်သွား တော်မူ၏၊ အခြားတ
၁၃ ပါးသောဘုရားမည်မျှမရှိ။-မြေကြီးပေါ်မှာမြင့်
မြတ်သောအရပ်တို့၌ နေရာချတော်မူသဖြင့်၊ သူ
သည် မြေ အသီး အနှံ ကိုစား၍၊ ကျောက်ထဲက
ပျားရည်ကို၎င်း၊ မီးပါကျောက်ထဲကဆီကို၎င်း၊-
၁၄ နွားသငယ်ဆီဥ၊ မာရှန်အမျိုး၏သိုးထီး၊ဆိတ်
ထီးဆီဥ၊ ကျုံစပါး ကျောက် ကပ် ဆီဥ နှင့် အကွ
နွားနို့တမ်း နှင့်သိုးနို့ကို၎င်း နို့မည်အကြောင်းမိ
ရင်တော်မူ၍၊သင်သည်စပျစ်သီးအသွေးစစ်ကို
သောက်ရ၏။
၁၅ ထိုရာတွင်၊ယေရှုရုန်သည်ဆူဝ၍၊ ခြေနှင့်ကန်
လေ၏၊ ဆူဝလျက်၊ တုတ်လျက်၊ ဆီဥ နှင့် ပြည့်စုံ
လျက်နေသဖြင့်၊ဖန်ဆင်းတော်မူသောဘုရားသ
ခင်ကိုစွန့်၍၊ကယ်တင်ရာကျောက်ကိုမထီမဲ့မြင်
၁၆ ပြု လေ ၏။- သူတို့ သည်၊ အခြား တ ပါး သော
ဘုရားအားဖြင့်၊ငြူစူစေကြ၏၊ ရွံရှာဖွယ်သော
အမှုအရာအားဖြင့်အမျက်တော်ကိုနိုးဆော်ကြ

၁၇ ၏။-ဘုရားမဟုတ်သောနတ်ဆိုး၊မသိဘူးသော
ဘုရား၊ ထိုးသေးတို့ မကြောက်ဘူးသောဘုရား
၁၈ သစ်တို့အား ယဇ်ပူဇော်ကြ၏။- သင်ဖြစ်ရာရှု
ထအမြစ်ကို သင်မမှတ်မိ၊ သင့်ကို ဖန်ဆင်း
တော်မူသော ဘုရားသခင်ကို သင်မေ့လျော့ပြီ။-
၁၉ ထိုအမှုကိုထာဝရဘုရားမြင်သောအခါ၊အရှက်
တော်ကွဲ၍၊ သားတို့၊ တော်တို့ကို စွန့်ပြစ်
၂၀ တော်မူလျက်၊- ငါသည်ကိုယ်မျက်နှာကို သူတို့
မှဖွဲ့မည်၊ သူတို့သည်အဘယ်သို့ ဆုံးမည်ကိုငါ
ကြည့်မည်၊ထတောခိုင်မာသောအမျိုး၊သစ္စာမ
၂၁ ရှိသောသားဆိုးဖြစ်ကြ၏။-ဘုရားမဟုတ်သော
အရာအားဖြင့်၊ ငါသည် ဖြူစုသော မိတ်မှိုစေ
ခြင်းငှါ ပြုကြပြီ၊ အချည်းနှီးသော အရာအား
ဖြင့်ငအမျက်ကိုနှိုးဆော်ကြပြီ၊ သို့ဖြစ်၍၊ မရေ
နသော လူမျိုးအားဖြင့် သူတို့သည် ဖြူစုသော
မိတ်မှိုစေခြင်းငှါ၎င်း၊ပညာမရှိသောလူမျိုးအား
၂၂ ဖြင့်မိတ်ဆိုးစေခြင်းငှါ၎င်းငါပြုမည်။- ငါသည်
အမျက်ထွက်၍ မီးရှို့သဖြင့်၊ အနက်ဆုံးသောမ
ရဏာနိုင်ငံသို့ ထောင်လိမ့်မည်၊ မြေနှင့် မြေအ
သီးအနှံကို လျှမ်းစေ၍၊ တောင် မြေရင်းတိုင်
၂၃ အောင်ထောင်လိမ့်မည်။-သူတို့အပေါ်မှာအေး
ဥပဒ်များကိုငါပို့မည်၊ ငမြှားတို့ကိုအကုန်အ
၂၄ စင်ပြစ်မည်။- သူတို့သည် မွတ်သိပ်ခြင်း အမှိန်
ကိုခံရ၍၊ ပူလောင်ခြင်း ထေး၊ ပြင်းစွာ သော
ဖျက်ဆီးခြင်းဘေးအားဖြင့်ဆုံးရှုံးကြလိမ့်မည်၊
ထားရဲတို့၏သွားကိုင်၎င်း၊ မြေ၌ကျင်လည်သော
မြွေအဆိပ်ကို၎င်း၊ သူတို့၌ ငါစေလွှတ်မည်။-
၂၅ အိမ်ပြင်၌ထားဘေး၊ အိမ်အတွင်း၌ ကြောက်
မက်ခြင်းသောဘေးသည်လုလင်နှင့်အပျိုကို၎င်း၊
နို့နို့သူငယ်နှင့် ဦးဆံဖြူသောသူကို၎င် ဖျက်ဆီး
၂၆ လိမ့်မည်။-ရန်သူ၏ မာန်မာနကို ငါမကြောက်
၂၇ လျှင်၎င်း၊ ရန်ဘက်ပြုသော သူတို့သည် ထောင်
လွှားလျှက်၊ ဤအမှုအလုံးစုံကို ထာဝရဘုရားမ
ပြု၊ ဘုန်းကြီးသော ငါတို့လက်ရုံး ပြုပြီဟုပြော
မည်ကိုမိုးမိမ်စရာမရှိလျှင်၎င်း၊သူတို့ကိုမြေကြီး
စွန်းထိုင်အောင် အရပ်ရပ်သို့ ကွဲပြားစေ၍၊ အ
ထယ်သူမျှမအောင်းမေ့စေခြင်းငှါပယ်ရှင်းမည်
၂၈ ထု ငါ အကြံ ရှိ၏။- အကြောင်းမူကား သူတို့
သည်ပညာသတိမရှိ၊ ညာဏ်ကင်းသောလူမျိုး
၂၉ ဖြစ်ကြ၏။-ပညာကိုရ၍၊ဤအမှုကိုနားလည်ကြ
ပါစေသော၊နောက်ဆုံးကာလ၌အဘယ်သို့ဖြစ်
စည်ကိုဆင်ခြင်ကြပါစေသောထုမိန့်တော်မူ၏။

၃၀ ထုထိုမိုဖွဲ့စရာကျောက်သည် သူတို့ကို စ
ရောင်း၊ ထာဝရဘုရားသည်သူတို့ကိုအပ်တော်
မမူလျှင်၊ လူတယောက်သည် လူတထောင်ကို
အဘယ်သို့ နှင်နိုင်မည်နည်း၊ လူနှစ်ယောက်
သည် လူတသောင်းကို အဘယ်သို့ ပြေးစေနိုင်
၃၁ မည်နည်း။- ငါတို့၏ ရန်သူများ ဝီရင် ဆုံးဖြတ်
သော်လည်း၊သူတို့ကျောက်သည်ငါတို့ကျောက်
၃၂ နှင့်မတူ။-သူတို့စပျစ်နွယ်ပင်သည်သောဒုံ စပျစ်
နွယ်ပင်မျိုး၊ဂေါမောရမြေ၌ပေါက်သောအပင်
မျိုးဖြစ်၏၊သူတို့စပျစ်သီးသည်ခါးသောအပင်၏
အသီးဖြစ်၍၊ စပျစ်သီးပြွတ်တို့သည်ခါးသောအ
၃၃ ရသာနှင့်ပြည့်စုံကြ၏။- သူတို့ စပျစ်ရည်သည်
နဂါးအဆိပ်၊ ပြင်းထန်သော မြွေဆိုးအဆိပ်အ
၃၄ တောက်ဖြစ်၏။- ဤအမှုသည် ငါ၌မှာ သိုထား
လျက်၊ ငါ ဘဏ္ဍာ တိုက်၌ တံဆိပ်ခတ်လျက်ရှိ
၃၅ သည် မဟုတ်လော။- အပြစ်တရားကို စီရင်ရ
သော အခွင့်၊ အပြစ်နှင့် အလျောက် ဆပ်ပေးရ
သောအခွင့်ကိုငါပိုင်၏၊ အချိန်တန်မှ၊ သူတို့ခြေ
သည်ချော်လိမ့်မည်၊ သူတို့၌ ဘေးရောက်သော
အချိန်နီးပြီ၊သူတို့တွေ့ကြုံရသော အမှုသည် အ
၃၆ လျင်အမြန် ရောက်လာလိမ့် မည်။- ထာဝရ
ဘုရားသည် မိမိလူတို့ အမှုတရား စီရင် တော်မူ
မည်၊ ကိုယ်တော်၏ ကျွန်တို့ သည် တန်ခိုးကုန်
ကြောင်း၊ အချုပ်ခံရသောသူ၊ လွတ်သောသူတ
ယောက်မျှမရှိကြောင်းကိုမြင်သောအခါ၊သူတို့
၃၇ အမှုကြောင့် နောင်တရ တော်မူလျက်၊- သူတို့
ဘုရား၊ သူတို့ခိုလှုံသောကျောက်သည် အဘယ်
၃၈ မှာရှိသနည်း။-သူတို့ပူဇော်သောဆီဥကိုစား၍၊
သွန်း လောင်းရာ ပူဇော် သကာ စပျစ်ရည်ကို
သောက်သောသူတို့သဉ် အဘယ်မှာရှိသနည်း၊
သူတို့သဉ်ထ၍၊ သင်တို့ကို ကွယ်ကာစောင့်မပါ
၃၉ စေ။-ငါသည်ကိုယ်တိုင်အား ဖြင့်ဘုရားဖြစ်
ကြောင်းကို၎င်း၊ငါမှတပါး၊ အခြားသောဘုရား
မရှိကြောင်းကို၎င်း ကြည့်ရှုကြလော့။ ငါသည်
အသက်ကိုသေစေ၏၊ အသက်ကိုလည်း ရှင်စေ
၏၊ငါသည် အနာပေါ်စေခြင်းငှါ ဒဏ်ခတ်၏၊
အနာကိုလည်းပျောက်စေ၏၊ ငါလက်မှ အဘယ်
၄၀ သူမျှ မကယ်မနုတ်နိုင်။- ငါသည် အစဉ်အမြဲ
အသက်ရှင်ပေ၏ဟု၊ လက်ကို ကောင်းကင်သို့
၄၁ ချီ၍ ကျိန်ဆို၏။-ငါသည် ပြောင်လက်သောထား
ကိုသွေး၍၊ တရားစီရင်ခြင်းငှါ ပြုလျက်၊ ရန်သူတို့၌
အပြစ်တရားကိုစီရင်မည်၊ငါ့ကိုမုန်းသောသူတို့

ခံထိုက်သော အပြစ် အ လျောက် ငါ ဆပ်ပေး
၄၂ မည်။-မြှား၊ထို့ကိုအသွေးနှင့်ယစ်မူးစေမည်။ငါ
ထားသည်အသားကိုစား၍လိမ့်မည်။သတ်သော
သူ၊သက်ရသောသူတို့၏အသွေး၊ရန်သူအကဲအ
မှူးတို့ ၏ ဦးခေါင်းကို စားသောက် လိမ့် မည်။-
၄၃ အပါးအမျိုးသားတို့၊ထင်တို့သည်ဘုရားသခင်
၏လူမျိုးနှင့်အတူဝမ်းမြောက်ခြင်း၌ကြလော့။
အကြောင်းမူကား၊ ကိုယ် တော် ၏ ကျွန် တို့ ကို
သတ်သော အပြစ်နှင့် အလျောက် ဒါဏ်ပေး၍၊
ကိုယ်တော်၏ ရန်သူတို့ ၌ အပြစ်တရားကို စီရင်
တော်မူမည်။ပြည်တော်နှင့်မိမိလူမျိုးကိုကယ်မ
၄၄ ယနားတော်မူမည်ဟူသော၊- ဤသီခြင်း စကား
ကိုမောရှေသည်ထ၍၊ နွန်သားယောရှုနှင့်အ
၄၅ တူလူများတို့အားဟောပြောမြွက်ဆို၏။-ထိုသို့
မောရှေသည်၊ ဤစကားအလုံးစုံတို့ကို ဣသရေ
လအမျိုးသား အပေါင်း တို့ အား အကုန် အစင်
၄၆ ဟောပြော မြွက်ဆို ပြီးလျှင်၊- သင် တို့ အားထ
နေ့ ငါ ထက်သေ ခံ သမျှ သော စကား တို့ကို နှစ်
လုံးသွင်းကြလော့။ သင်တို့သားသြွေးတို့သည်၊ဤ
ပညတ်တရားစကားတော် အလုံးစုံတို့ကိုစောင့်
ရှောက် စေခြင်း ငှါ၊ သူတို့ အား ထပ် ဆင့်၍ မှာ
၄၇ ထားရကြမည်။- ဤအမှုသည် သာမည အမှုမ
ဟုတ်၊သင်တို့အသက်နှင့်ဆိုင်သောအမှုဖြစ်၏။
ယော်ဒန်မြစ်ကိုကူး၍ဝင်စားလတံ့သောပြည်၌
ဤအမှုကိုစောင့်ရှောက်လျှင်၊ကိုယ်အသက်တာ
ရှည်ကြလိမ့်မည်ဟု ပြောဆို၏။
၄၈ ထိုနေ့ ချင်းတွင် ထာဝရ ဘုရားက၊ ယေရိခေါ
မြို့တဘက်၊ မောဘပြည်အာဗရိမ်တောင်မိုး၊နေ
၄၉ ဗောတောင်ထိပ်ပေါ် သို့တက်၍၊- ဣသရေလ
အမျိုး သားတို့အား ငါ အပိုင် ပေးသော ခါနာန်
၅၀ ပြည်ကိုကြည့်ရှုလော့။-သင့်အစ်ကို အာရုန်သည်
ဟောရ တောင်ပေါ်မှာသေ၍၊ မိမိလူမျိုး စည်း
ဝေးရာသို့ ရောက် သကဲ့သို့၊ သင်သည် ထည်း၊
တက်သွားသောဤတောင်ပေါ်မှာသေ၍၊ သင်၏
၅၁ လူမျိုးစည်းဝေးရာသို့ရောက်လော့။-အကြောင်း
မူကား၊ သင်တို့သည်ဇိနတော၊ ကာဒေရှ၌၊မေ
ရိဘစမ်းရေ အနားနှင့်၊ ဣသရေလ အမျိုးသား
၅၂ တို့-၌မှာ ငါကို မရိုမသေပြု၍ပြစ်မှားကြပြီ။-ထို
ကြောင့် ဣသရေလ အမျိုးသား တို့အား ငါပေး
သောပြည်ကို၊ သင်သည် ကိုယ်မျက်စိနှင့် မြင်ရ
သော်လည်း၊ ထိုပြည်သို့မဝင်စားရဟု၊မောရှေ
အားမိန့်တော်မူ၏။

၃၃

၁ ဘုရားသခင်၏လူမောရှေသည်မသေမှီ၊ဣသ
ရေလအမျိုးသားတို့ကို ကောင်းကြီး ပေးသော
၂ မင်္ဂလာ စကားဟူမူကား၊- ထာဝရဘုရားသည်
သိနာ တောင်ပေါ်က ကြွတော်မူ၏၊ စိရအရပ်မှ
ထိုလူတို့အား နေထွက်တော်မူ၏၊ ပါရန်တောင်
ပေါ်ကရောင်ခြည်ထွန်းပတော်မူ၍၊ သန့်ရှင်း
သောသူ အထောင် အသောင်း တို့နှင့် အတူ ကြွ
တော်မူ၍၊ ဓမ္မ မီးသည် ဣသရေလ လူတို့အမှီ၊
၃ လက်ျာလက်တော်မှ ထွက်လေ၏။- အကယ်စင်
စစ်ထိုလူမျိုးကို ချစ်တော်မူ၏။ မိမိသန့်ရှင်းသူအ
ပေါင်းတို့သည်အထံတော်ပါး၌ရှိကြ၏။ ထိုသူတို့
သည်ခြေတော်ရင်း၌ပြပ်ဝပ်၍၊ စကားတော်ကို
၄ ကိုနာခံကြလေ၏။- ယာကုပ်အမျိုး ပရိသတ်
အမွေခံရသောဓမ္မတရားကို မောရှေသည်ငါတို့
၅ အားထား၏။- ဣသရေလ အမျိုး မင်းများ နှင့်
တကွ၊ အမျိုး အနွယ် များတို့ သည် စည်းဝေး
သောအခါ၊ထိုသူသည်ယေရှုရုန်အမျိုး၌ ရှင်ဘု
ရင်ဖြစ်၏။
၆ ရုဗင် အမျိုး မသေ၊ အသက် ရှင်၍ ထိုအမျိုး
၇ သည် များပါစေသော။- ယုဒအမျိုးကိုလည်း ဆို
သောငရာဘုရား၊ ယုဒ စကားသံကိုနားထောင်၍၊
ထိုအမျိုးသားချင်းတို့ရှိရာသို့ဆောင်ခဲ့တော်မူ
ပါ။ မိမိထက်တို့သည် မိမိ အမှီတန်ပါစေသော
ထိုကို ရန်သူတို့ လက်မှ ကယ် တင် တော်မူပါ။-
၈ လေဝိအမျိုး၊ကိုကား၊သင်၏သုမိမ်နှင့်ဥရိမ်သည်
မဿာအရပ်၌သင်စုံစမ်း၍၊ မေရိဘစမ်းရေအ
နားမှာ သင်ဆန့်ကျင်ဘက်ပြုသော၊ သင်၏သန့်
၉ ရှင်းသူ၌ ရှိပါစေသော။- ထိုသူသည် ကိုယ်မိဘ
ဖြစ်သော်လည်း ငါမတွေ့မမြင်ဟု ဆိုတတ်၏။
ကိုယ် ညီ အစ်ကို ကိုလည်း မမှတ် တတ်၊ ကိုယ်
သား သမီး ကို လည်း မသိ တတ်။ အကြောင်းမူ
ကား၊ စကား တော်ကို နား ထောင်၍၊ ပဋိညာဉ်
၁၀ တရား တော်ကို စောင့် ရှောက် တတ်၏။- သူတို့
သည် စီရင်တော် မူချက်တို့ကို ယာကုပ် အမျိုးအား
၎င်း၊တရားတော်ကို ဣသရေလ အမျိုးအား၎င်း ဆုံးမ
သွန်သင် ကြလိမ့်မည်။ မီးရှို့ရာနံ့သာ ပေါင်းကို ရှေ့
တော်၌၎င်း၊ တကိုယ်လုံး မီးရှို့ရာယဇ်ကို ယဇ်
ပလ္လင်တော်ပေါ်၌၎င်းတင်ထား ကြလိမ့်မည်။-
၁၁ ထိုထာဝရဘုရား၊ သူ၏ဥစ္စာကိုကောင်းကြီးပေး
၍၊ သူလုပ်ဆောင်သော အမှုကို လက်ခံ တော်မူ
ပါ။သူတဖက်၌ထ၍၊သူကိုမုန်းသောသူတို့အပြီး



 

နောက်တဖန် မထနိုင်စေခြင်း၊ သူတို့ခါးကိုရိုက်တော်မူပါ။

၁၂ ဗင်္ယာမိန်အမျိုးကိုကား၊ ထာဝရဘုရားချစ်
တော်မူသောသူသည် အထံတော်ပါး၌ လုံခြုံ
စွာနေရလိမ့်မည်။ သူကိုအစဉ်အမြဲဖုံးလွှမ်း၍၊
သူ၏ပခုံးကြားမှာ နေရာချတော်မူလိမ့်မည်။-
၁၃ ယောသပ်အမျိုးကိုကား၊ ထိုအမျိုးနေသော
ပြည်သည်အထက်မိုဃ်းကောင်းကင်ထက္ခာ
အားဖြင့်၎င်း၊ အောက်အရပ်၌ ဝပ်းကွယ်၍
၁၄ နေထိုင်သောအရာ အားဖြင့်၎င်း၊- နေဖြစ်စေ
သော ထက္ခာ၊ လဖြစ်စေသော ထက္ခာအားဖြင့်
၁၅ ၎င်း၊- အထက်ကြီးသောတောင်ထိပ်၊ မြဲမြံသော
တောင်ထဲကထွက်သော ထက္ခာအားဖြင့်၎င်း၊-
၁၆ မြေကြီးထက္ခာ နှံ့ထင်ရှားအားဖြင့်၎င်း၊ ထာဝရ
ဘုရားပေးတော်မူရာ၌ မင်္ဂလာရှိပါစေသော။ ချုံ
၌နေတော်မူသောသူ၏ကျေးဇူးတော်သည် ယော
သပ်ခေါင်းပေါ်၊ ညီအစ်ကိုတို့တွင် အကြီးအကဲ
ဖြစ်သောသူ၏ခေါင်းထိပ်ပေါ်မှာ သက်ရောက်
၁၇ ပါစေသော။- သူ၏ဘုန်းသည်နွားထီးဦးထက
သန်းကဲ့သို့၎င်း၊ သူ၏ဦးချိုတို့သည် ကြံ့အီး၏ဦးချိုကဲ့
သို့၎င်းဖြစ်ကြ၏။ ၎င်းဦးချိုတို့နှင့် လူအမျိုးမျိုးတို့
ကိုမြေကြီးစွန်း ထိုင်အောင် တပြိုင်နက် ထိုးခတ်
လိမ့်မည်။ ဧဖရိမ်အမျိုးသားအသောင်းသောင်း၊
မနာရှေအမျိုးသား အထောင်ထောင်ပေတည်း။
၁၈ ဇာဗုလုန်အမျိုးကိုကား၊ ဇာဗုလုန်အမျိုး၊
ထွက်သွားရာအမှု၌ဝမ်းမြောက်လော့။ ဣသ
ခါအမျိုး၊ မိမိတဲ၌နေလျက်ဝမ်းမြောက်လော့။-
၁၉ ထိုအမျိုးတို့သည်လူများတို့ကို တောင်တော်သို့
ခေါ်၍၊ တောင်တော်၌တရားသဖြင့်ယဇ်ပူဇော်
ကြလိမ့်မည်။ ပင်လယ်စည်းစိမ်၊ သဲ၌ဝှက်ထား
လျှက်ရှိသော ထက္ခာကိုနို့ကြလိမ့်မည်။- ဂဒ်
၂၀ အမျိုးကိုကား၊ ဂဒ်အမျိုးကိုကျယ်ဝန်းစေသော
သူသည်မင်္ဂလာရှိတော်မူစေသတည်း၊ ထိုအမျိုး
သည်ခြင်္သေ့ကဲ့သို့နေ၍၊ လက်ရုံးနှင့် ဦးထိပ်ကို
၂၁ ဆုတ်ဖဲ့တတ်၏။- ရှေ့ဦးစွာသော အပိုင်ကိုမိမိအ
ဖို့ရွေးယူ၍၊ တရားမင်းသွဲ့ဝေရာထိုအရပ်၌သိုထားလျက်
ရှိ၏။ လူများတို့၏ အကဲအမှူး ပြုလျက်လိုက်လာ
၍၊ ထာဝရဘုရား၏တရား၊ ဣသရေလအမျိုး
၂၂ ၌စီရင်တော်မူချက်တို့ကို ပြုလေ၏။- ဒန်အမျိုး
ကိုကား၊ ဒန်အမျိုးသည် ခြင်္သေ့သငယ်ဖြစ်၍၊
၂၃ ဗာရှန်ပြည်မှခုန်လိမ့်မည်။- နဿလိအမျိုးကို
ကား၊ ထိုနဿလိအမျိုး၊ ကျေးဇူးတော်နှင့်
ပြွယ်ဝ၍၊ ထာဝရဘုရားပေးတော်မူသောမင်္ဂ
လာနှင့် ပြည့်စုံလျက်၊ အနောက်မိုင်း၊ တောင်
၂၄ မိုင်းကို ဝင်စားလော့။- အာရှာအမျိုးကိုကား၊
အာရှာအမျိုး၊ သည်သားသမီးကိုရ၍၊ မင်္ဂလာရှိပါ
စေသော၊ ညီအစ်ကိုနှင့်မိတ်နှင့် တွေ့ခြင်း၊ မိမိ
၂၅ ခြေကိုဆီ၌နှစ်ခြင်းရှိပါစေသော။- သင်၏တံခါး
ကန့်လန့်ကျင်တို့သည်သံနှင့်ကြေးဝါဖြင့်ပြီး၊ ဖြစ်
လိမ့်မည်။ သင်၏နေ့ရက်ကာလ ဖြစ်သည် အ
တိုင်း၊ သင့်အစွမ်းသတ္တိဖြစ်လိမ့်မည်။
၂၆ ထင့်ကို ပြုစုစေခြင်းငှါ ဘုန်းအသရေတော်နှင့်
ပြည့်စုံလျက်၊ မိုဃ်းကောင်းကင်ကို စီးတော်မူ
သောယေရှုရုန်အမျိုး၏ဘုရားသခင်နှင့်တူသော
၂၇ သူမရှိ။- ရှေးဦးစွာသော ဘုရားသခင်သည် သင်
ခိုလှုံရာ ဖြစ်၍၊ နိစ္စထာဝရ လက်ရုံးတော် ဖြင့်
သင့်ကို ထောက်မတော်မူ၏။ ရန်သူတို့ကို သင့်
ရှေ့မှနှင်ထုတ်၍၊ သူတို့ကိုဖျက်ဆီးသောအခွင့်
၂၈ ပေးတော်မူမည်။- ဣသရေလအမျိုးသည်ဘေး
လွတ်၍၊ တမျိုးတည်းနေရလိမ့်မည်။ ယာကုပ်
အနွယ်သည် စပါး၊ စပျစ်ရည်နှင့် ပြည့်စုံသော
ပြည်၌နေရာကျ၍၊ မိုဃ်းနှင်းရည်ထည်း စက်
၂၉ စက်ကျလိမ့်မည်။- ဟို ဣသရေလအမျိုး၊ သင်
သည်မင်္ဂလာရှိ၏။ ထာဝရဘုရားကယ်တင်တော်
မူသော အမျိုး၊ သင်နှင့်အဘယ်သူတူသနည်း။
ထိုဘုရားသည် သင့်ကိုကွယ်ကာသောဒိုင်းလွှား၊
သင့်ကိုချီးမြှောက်သော ထားလက်နက် ဖြစ်
တော်မူ၏။ သင်၏ရန်သူတို့သည် သင့်ရှေ့မှာရှုံး
၍၊ သင်သည်သူတို့၏ မြင့်မြတ်သော အရပ်တို့၌
နင်းရလိမ့်မည်ဟုမြွက်ဆို၏။

၃၄

၁ ထိုနောက်၊ မောရှေသည် မောဘလွင်ပြင်မှ
သွား၍၊ ယေရိခေါ်မြို့တဖက်၊ နေဗောတောင်၊ ပိ
သဂါထိပ်ပေါ်သို့ တက်သဖြင့်၊ ထာဝရဘုရား
သည် ဒန်မြို့တိုင်အောင်၊ ဂိလဒ်ပြည်တရှောက်
၂ လုံး၊- နဿလိပြည်တရှောက်လုံး၊ ဧဖရိမ်ပြည်၊
မနာရှေပြည်နှင့်တကွ၊ အနောက်ဆုံးသောပင်လယ်
၃ တိုင်အောင်၊ ယုဒပြည်တရှောက်လုံး၊- တောင်
ပြည်နှင့်တကွ၊ ဇောရမြို့တိုင်အောင်၊ စွန်ပလွံမြို့
တည်းဟူသောယေရိခေါမြို့တည်သောချိုင့်နှင့်
၄ လွင်ပြင် တို့ကိုပြတော်မူ၏။- ထာဝရဘုရားက
လည်း၊ ငါသည်အာဗြဟံ၊ ဣဇာက်၊ ယာကုပ်တို့
အား ကျိန်ဆို၍ သင်၏အမျိုးအနွယ်အားငါ
ပေးမည်ဟု ဂတိထားသောပြည်ကိုကြည့်လော့။

ထင်သည့် ကိုယ်ရှုတ်မိန့်တော်ရသောအခွင့်ကို
ငါပေး၏။သို့ရာတွင်၊ကူး၍မသွားရဟုမိန့်တော်
၅ မူ၏။— ထိုသို့ထာဝရဘုရား မိန့်တော်မူသည်အ
တိုင်း၊ ထာဝရဘုရား၏ ကျွန်မောရှေသည် မော
၆ အပြည်၊ထိုအရပ်၌အနိစ္စရောက်၍၊— ဗက်ပေဂေါ
ရမြို့တဖက်၊မောအပြည်၊တစုံတခုသောချိုင့်၌
သင်းပြိုဟ်တော်မူ၏။ မောရှေ၏သင်းချိုင်းကိုသ
၇ ရှေ့တိုင်အောင် အဘယ် လူမျှ မသိရ။— မောရှေ
သည် အနိစ္စရောက် သောအခါ၊ အသက်တရာ
နှစ်ဆယ်ရှိ၏။ သူ၏ မျက်စိမမှုန်သေး။ ခွန်အား
၈ ထည်းမလျော့သေး။— ဣသရေလအမျိုးသားတို့
သည်မောရှေကို အောင်းမေ့၍၊ မောအလွင်ပြင်
၌ အရက်သုံး ဆယ် ပတ်လုံး ငိုကြွေးမြည်တမ်း
ခြင်းကိုပြုကြ၏။
၉ မောရှေအတွက် ငိုကြွေးမြည်တမ်းသောနေ့
ရက်ကာလထွန်ပြီးမှ၊ နွန်၏သား ယောရှုသည်
အထက်ကမောရှေ၏ထက်တင်မပီသောကိုခံရသ
ဖြင့်၊ ပညာသတော့နှင့် ပြည့်စုံသော သူဖြစ်၍၊
ဣသရေလအမျိုးသားတို့သည်ယောရှု၏စကား
ကိုနားထောင်လျှက်၊မောရှေအားထာဝရဘုရား
မိန့်တော်မူသည်အတိုင်းပြုကြ၏။
၁၀-၁၂ ထာဝရဘုရားစေလွှတ်တော်မူ၍၊အဲဂုတ္တု
ပြည်တွင်ဖာရောဘုရင်နှင့်သူ၏ကျွန်မှစ၍၊ပြည်
သား အပေါင်း တို့၌ နိမိတ် လက္ခဏာ၊ အံ့ ဩဖွယ်
သောအမှုအလုံးစုံတို့ကိုပြု၍၊ ဣသရေလအမျိုး
သား အပေါင်းတို့ရှေ့မှာ မဟာ တန်ခိုး တော်နှင့်
အလွန် ကြောက် မက်ဖွယ်သော အမှု အရာအ
ပေါင်း ထိုကို ပြလေ ရာတွင်၊ ထာဝရ ဘုရား၏
မျက်နှာတော်ကိုကိုယ်တိုင် ကိုယ်ကြပ်ဖူးမြင်ရ
သောပရောဖက် မောရှေကဲ့သို့၊ နောက် ထပ်ဣ
သရေလအမျိုး၌ သူနှင့်တူသော ပရော ဖက်တစုံ
တပါးမျှမပေါ်မထွန်း။

ရှင်မောရှေမိရင်ရေးထားသောတရားဟောရာကျမ်းပြီး၏။

---

# ယောရှုမှတ်စာ။

## JOSHUA.

၁

၁ ထာဝရ ဘုရား ၏ ကျွန် မော ရှေသည် အနိစ္စ
ရောက်သော နောက်၊ မောရှေ၏လက်ထောက်၊ နွန်
၂ ၏သား ယော ရှု အား ထာဝရ ဘုရားက၊— ငါ၏
ကျွန်မောရှေသည် အနိစ္စရောက်လေပြီ၊ သို့ဖြစ်
၍၊သင်နှင့်သင်၌ပါသော ဤလူအပေါင်းတို့သည်
ထစုထ၍၊ယော်ဒန်မြစ်တဖက်သို့ကူးကြလော့။
ဣသရေလအမျိုးသားတို့အား ငါပေးသောပြည်
၃ ကို ဝင်စားကြလော့။— မောရှေအား ငါ ဂတိရှိ
သည်အတိုင်း၊ သင်တို့ နင်းသမျှသောမြေကို သင်
၄ တို့အားငါပေးမည်။— တောကြီးမှစ၍၊လေဗနုန်
တောင် တိုင်အောင် ၎င်း၊ ဥဖရတ် မြစ်ကြီး မှစ၍၊
ဟိတ္တိပြည် တ ချောက် လုံး ပါ လျက်၊ နေဝင်ရာ
ထက်၊ ပင်လယ် ကြီး တိုင် အောင် ၎င်း၊ သင်တို့
၅ နယ် အပိုင်း အခြား ဖြစ်ရမည်။— သင့် အသက်
ထည်သည့်ကာလ ပတ်လုံး၊သင့်ရှေ့မှာအဘယ်
သူမျှ မခံမရပ် နိုင်ရာ။ မောရှေ နှင့် အတူ ငါရှိသ
ကဲ့သို့၊သင်နှင့်အတူငါရှိလိမ့်မည်။ငါသည်သင့်
၆ ကိုမစွန့်၊သင့်ကိုပြစ်၍မထား။— အားယူ၍ရဲရင့်
ခြင်း ရှိလော့။ ထိုးဘေး တို့အား ပေးမည်ဟု၊ ငါ
ကျိန်ဆိုသော ပြည်ကို၊ သင်သည် ဤလူတို့ အား
၇ ဝေ၍ အမွေပေးရမည်။— သို့ဖြစ်၍၊ ငါ၏ ကျွန်
မောရှေမှာထားသော တရားအတိုင်း ကျင့်မည်
ဟုစောင့်ရှောက်ခြင်းငှါအားယူ၍၊အလွန်ရဲရင့်
ခြင်းရှိလော့။ ကြံစည်လေသမျှတို့၌အောင်မည်
အကြောင်း၊ ထို တရား ထမ်း သို့ လိုက် လော့။
၈ လက်ျာ ဘက်၊ လက် ဝဲ ဘက် သို့ မလွှဲနှင့်။— ထို
ပညတ်တို့ ကျမ်းစာ၌ ရေးထားသမျှ အတိုင်း ကျင့်
မည်ဟုစောင့်ရှောက်ခြင်းအလို့ငှါ၊ကျမ်းစာကို
မဖတ် မရွတ်ဘဲမနေ၊ နေ့ညဉ့် မပြတ် ကြည့်ရှု

တော်မှတ်ရမည်၊ သို့ပြုလျှင်၊ သင်သည် အကြံထ
၉ မြောက်၍ အောင်မြင် လိမ့်မည်၊- သင့်ကိုငါမှာ
ထားသည်မဟုတ်လော၊ အားယူ၍ရဲရင့်ခြင်းရှိ
လော့၊ မကြောက်နှင့်၊ စိတ်မပျက်နှင့်၊ သွားလေ
ရာရာ၌သင်၏ဘုရားသခင်ထာဝရဘုရားရှိသည်
ဟုမိန့်တော်မူ၏၊
၁၀ ထိုအခါယောရှုသည် မှူးမင်းများတို့ကိုခေါ်
၁၁ ၍၊-တပ် တရှောက် လုံးသို့ သွားကြ လော့၊ သင်
တို့၏ဘုရားသခင်ထာဝရဘုရားအပိုင်ပေးတော်
မူသောပြည်ကိုဝင်စားခြင်းငှါ၊ သုံးရက် အတွင်း၊
တွင် ဤ ယော်ဒန် မြစ် တ ဖက် သို့ ကူး ရ သော
ကြောင့်၊ ရိက္ခာကိုပြင်ဆင်ရကြမည်အကြောင်း၊
လူ များ တို့ အား ဆင့်ဆို ကြ လော့ဟု မှာထား
လေ၏၊
၁၂ ထိုနောက်ယောရှုသည် ရုဗင်အမျိုးသား၊ ဂဒ်အ
မျိုးသား၊ မနာရှေ အမျိုးသား တဝက်တို့ကိုခေါ်
၁၃ ၍၊-ထာဝရဘုရား၏ကျွန်မောရှေသည်၊ သင်တို့
အားမှာထားသော စကား တူမှုကား၊ သင်တို့၏
ဘုရား သခင် ထာဝရ ဘုရားသည် သင်တို့ကို ဤ
၁၄ ပြည်၌နေရာချတော်မူပြီ၊- သင်တို့သားမယား၊
သူငယ် များနှင့် တိရစ္ဆာန် များ တို့သည် ယော်
ဒန်မြစ်အရှေ့ဘက်၌မောရှေပေးသောပြည်၌နေ
၁၅ ရစ်ရကြမည်၊- ထာဝရဘုရားသည်သင်တို့အား
နေရာချသည် အတိုင်း၊ ညီအစ်ကိုတို့အား နေရာ
ချတော်မမူမှီ၊ သင်တို့၏ဘုရားသခင်ထာဝရဘုရား
ပေးတော်မူသော ပြည်ကို သူတို့သည် မသိမ်းမ
ယူမှီတိုင်အောင်၊ သင်တို့တွင်ခွန်အားကြီးသော
စစ်သူရဲ အပေါင်းတို့သည် ထက်နက်ကိုင်လျက်၊
သင်တို့ညီအစ်ကိုများ၏ရှေ့မှာကူး၍မစရကြမည်
ဟု သော စကား ကို အောက်မေ့ ကြ လော့၊ ထို
နောက်မှ၊ ထာဝရ ဘုရား၏ ကျွန် မောရှေသည်
ယော်ဒန်မြစ်၊ နေထွက်ရာဘက်၌ပေး၍၊ သင်တို့
ပိုင် သော ပြည် သို့ ပြန်၍ဝင် စား ရကြ မည် ဟု
၁၆ ပြောဆို၏၊-ထိုသူတို့ကလည်း၊ ကိုယ်တော် မှာ
ထားတော်မူသမျှကိုကျွန်တော်တို့ပြုပါမည်၊ စေ
လွှတ်တော်မူသမျှသောအရပ်သို့ သွားပါမည်၊-
၁၇ အရာရာ တို့၌ မော ရှေ၏ စကားကို နား ထောင်
သည်နည်းတူ၊ ကိုယ်တော်စကားကိုလည်း၊ နား
ထောင်ပါမည်၊ သို့ဖြစ်၍၊ ကိုယ် တော်၏ ဘုရား
သခင် ထာဝရ ဘုရားသည် မော ရှေနှင့် အတူရှိ
သကဲ့ သို့၊ ကိုယ် တော် နှင့် အတူ ရှိတော်မူပါစေ
၁၈ သော၊-[illegible]တော်ကို ဆန့်၍၊ မှာထားတော်
မူသမျှသောစကားကိုနားမထောင်သောသူမည်
သည်ကား၊ အသေသတ်ခြင်းကိုခံစေရမည်၊ သို့
ဖြစ်၍၊ အားယူတော် မူပါ၊ ရဲရင့်ခြင်း ရှိတော်မူ
ပါဟု၊ ယောရှုအားပြန်လျှောက်ကြ၏၊

၂

၁ နုန်၏သား ယောရှုသည် သူလျှို နှစ်ယောက်
ကိုရှိတ္တိမ်မြို့မှ တိတ် ဆိတ်စွာ စေလွှတ်လျက်၊ ခါ
နာန်ပြည် ယေရိခေါ မြို့ကို သွား၍ ကြည့်ရှုကြ
လော့ဟုမှာထားလိုက်သည်အတိုင်း၊ သူတို့သည်
သွားပြီးလျှင်၊ ရာခပ်အမည် ရှိသော ပြည်တန်
၂ ဆာမိန်းမ အိမ်သို့ ဝင်၍နေလေ၏၊- ပြည်သား အ
ချို့တို့ကလည်း၊ ဤပြည်ကိုစူးစမ်းခြင်းငှါ၊ ဣသ
ရေလ အမျိုးသားအချို့တို့သည် ယနေ့ညမှာမြို့
တွင်း သို့ ဝင်ပါပြီဟု၊ ယေရိခေါ မင်းကြီး အား
၃ လျှောက် ကြား ကြသည် ရှိသော်၊- ယေရိခေါ
မင်းကြီးသည်ရာခပ်အား၊ သင့်ဆီသို့ရောက်လာ
၍၊ သင့်အိမ် သို့ဝင်သောသူတို့ကိုအပ်လော့၊ သူ
တို့သည် တပြည်လုံးကိုစူးစမ်းခြင်းငှါရောက်လာ
၄ ပြီဟုအမိန့်တော်နှင့်စေလွှတ်လေ၏၊-ရာခပ်သည်
ထိုသူနှစ်ယောက်တို့ကိုဝှက်ထားနှင့်ပြီးမှ၊ ကျွန်
မထံသို့ လူရောက်သည် မှန်ပါ၏၊ သို့ရာတွင်၊ အ
၅ ဘယ် အရပ်က လာသည်ကိုမသိပါ၊-ရိုးချုပ်
၍၊ တံခါးပိတ်ချိန် ရှိသောအခါ၊ သူတို့သည်ထွက်
သွား ကြ ပါ ၏၊ အ ဘယ် အရပ် သို့ ထွက် သွား
သည်ကို မသိပါ၊ အလျင်အမြန်လိုက်ကြလော့၊
၆ မှီကောင်း မှီပါ လိမ့်မည်ဟု ပြန်ပြော၏၊- သို့ဆို
သော်လည်း၊ ထိုသူတို့ကိုအိမ်အပေါ်သို့တက်စေ
၍၊ အမိုးပေါ်မှာဖြန့်ထားသောပိုက်ဆန်မျိုးထဲ၌
၇ ဝှက်ထားနှင့်ပြီ၊-မင်းလုလင်တို့သည်ယော်ဒန်
မြစ်ကူးရာထမ်းသို့လိုက်ကြ၏၊ မြို့ပြင်သို့ရောက်
ကြပြီးမှ၊ မြို့တံခါးများကိုပိတ်ကြ၏၊
၈ သူလျှိုတို့သည် မအိပ်မှီ၊ မိန်းမသည် သူတို့ရှိရာ
၉ အိမ်မိုးပေါ်သို့ တက်၍၊- ထာဝရ ဘုရားသည်
သင်တို့အား ဤ ပြည်ကို ပေးတော် မူကြောင်းကို
၎င်း၊ သင်တို့ကို ငါတို့ ကြောက်လန့် အား ကြီး၍၊
သင်တို့ ကြောင့် ပြည်သူ ပြည်သား အပေါင်း တို့
သည်စိတ်ပျက်ကြောင်းကို၎င်း ကျွန်မသိပါ၏၊-
၁၀ သင်တို့သည် အဲဂုတ္တုပြည်မှ ထွက်လာ သောအ
ခါ၊ ပင်လယ်နီ ရေကို ထာဝရ ဘုရား ခန်း
ခြောက်စေတော်မူကြောင်းကို၎င်း၊ ယော်ဒန်မြစ်
တဖက်၌နေ၍၊ သင်တို့ ရှင်းရှင်း ဖျက်ဆီး သော
အာမောရိ ရှင်ဘုရင် ရှိဟုန်နှင့် [illegible] တို့၌ ဆင်

ထို့ပြုသော အမှုကိုငင်၊ အကျွန်ုပ်တို့ ကြားရကြ
၁၁ ပြီ၊- ထို သိတင်းကို ကြားသော အခါ၊ အကျွန်ုပ်
တို့သည် စိတ် ပျက် ၍၊ သင်တို့ ကြောင့် တစုံတ
ယောက်သောသူ၌ မျှရဲရင့်ခြင်းသတ္တိ အလျှင်းမ
ကျန် ကြွင်း ပါ၊ အကြောင်း မူ ကား၊ သင် တို့၏
ဘုရားသ ခင် ထာ ဝ ရ ဘု ရား သည် အ ထက်
ကောင်းကင် ဘုံ၌ငင်၊ အောက်အရပ် မြေကြီး၌
ငင်၊ အစိုးရသော ဘုရား သခင် ဖြစ်တော် မူ၏။-
၁၂ ထို့ဖြစ်၍၊သင်တို့၌ကျွန်မသည်ကျေးဇူးပြုသော
ကြောင့်၊ သင် တို့သည် ကျွန် မ ပေါက် ဖော် တို့၌
၁၃ ကျေးဇူးပြု၍၊- ကျွန်မမိဘ၊ညီအစ်မ၊ မောင်အ
စ်ရှိသော၊ သူတို့ နှင့် ဆိုင် သမျှ သော သူတို့ကိုမ
ထိတ်ဘဲ အသက်ချမ်းသာ ပေးမည်ဟု၊ ထာဝရ
ဘုရားကိုတိုင်တည်၍ ကျွန် ဆိုကြပါ။ မှန်သော
အထွ အာသက်သေကိုလည်းပေးခဲ့ကြပါဟုဆို
၁၄ လျှင်၊- ထို သူ တို့က၊ သင် သည် ငါ တို့ အမှု ကိုမ
ဖော် မပြ လျှင်၊ သင့် အသက် အတွက် ငါတို့ အ
ထိတ်သည်အာမခံဖြစ်စေတော့၊ ဤပြည်ကိုထာ
ဝရဘုရား ပေးတော် မူသော အခါ၊ သင်၌ သနား
၁၅ ခြင်း၍ ကျေးဇူးပြုမည်ဟု ဝန်ခံ ကြ၏။- ထိုမိန်း
မရာဟပ်သည် မြို့ရိုးနားမှာရှိသောကြောင့်၊ထို
သူ တို့ကို ပြ တင်း ပေါက် က ကြိုး နှင့် လျှော ချ
၁၆ လျှက်၊- သင်တို့သည်လိုက်၍ရှာသောသူတို့နှင့်
တွေ့မည်အကြောင်း၊တောင်ပေါ်သို့ပြေး၍သုံး
ရက် ပုန်း နေကြပါ။ ရှာ သော သူတို့ သည် ပြန်
၁၇ သော နောက်မှ၊ သွားကြ ပါဟု ဆို လျှင်၊- ထိုသူ
တို့က၊ သင် သည် ကျွန် ဆို စေ သော အ ကျွန်
၁၈ ကြောင့်၊ ငါတို့၌ အပြစ် မရောက် ပါစေနှင့်။- ဤ
ပြည်သို့ငါတို့ရောက်လာသောအခါ၊ယခုလျှော
ချသောပြတင်းပေါက်၌၊ဤကြိုးနီကိုချည်ထား၍၊
သင့်မိဘ၊သင့်မောင်မှားနှင့်ပေါက်ဖော်များအ
၁၉ ပေါင်းတို့ကို သင့်အိမ်၌ ခေါ်ထားရမည်။- ထိုအ
ခါသင့်အိမ်ထဲက ထမ်းသို့ ထွက် သွားသောသူ
မည်သည်ကား၊သေလျှင်၊သေပြစ်ကိုကိုယ်တိုင်
ခံစေ၊ ငါတို့သည် အပြစ်လွတ်စေ။ သင့်အိမ်၌ရှိ
သော သူမည် သည်ကို အသေ သတ်လျှင်၊ သေ
၂၀ ပြစ်ကို ငါတို့သည် ခံစေ။- ငါတို့ အမှု ကိုလည်း
သင်သည်ဖော်ပြလျှင်၊သင်ယခုကျွန်ဆိုစေသော
၂၁ အကျိန်နှင့်ငါတို့သည် လွတ်စေဟုဆိုလျှင်၊-မိန်း
မက၊သင်တို့စကားရှိသည်အတိုင်းဖြစ်ပါစေတော့
ဟုဝန်ခံလျက်၊ လွှတ်လိုက်၍၊ သူတို့သည် သွား
ကြ၏။မိန်းမသည်၊ထိုကြိုးနီကိုပြတင်းပေါက်
၂၂ ၌ချည် ထားလေ၏။- ထိုသူတို့သည် တောင်ပေါ်
သို့ရောက်အောင် သွား၍၊ လိုက်ရှာသော သူတို့
မပြန်မှီတိုင်အောင်၊ သုံးရက်နေကြ၏။ ရှာသော
သူတို့သည်လည်း၊ ထမ်းတလျှောက်လုံး ရှာ၍မ
၂၃ တွေ့ကြ။- ထိုလူ နှစ် ယောက် တို့သည် ဆင်း၍၊
တောင်ပေါ်ကဆင်းပြီးမှ၊ မြစ်ကိုကူးသဖြင့်၊နုန်
၏သားယောရှုထံသို့ရောက်၍၊မိမိတို့၌ဖြစ်သမျှ
၂၄ တို့ကိုပြန်ကြားလျက်၊- အကယ်စင်စစ် ထာဝရ
ဘုရားသည်ထိုပြည်တရှောက်လုံးကိုငါတို့လက်
သို့ အပ်တော်မူပြီ။ ငါတို့ကြောင့် ပြည်သူ ပြည်
သား အပေါင်းတို့သည်စိတ်ပျက်လျက် ရှိကြပါ
၏ဟု၊ယောရှုအားလျှောက်ဆို၏။

၃

၁ ယောရှုသည်နံနက်စောစောထ၍၊ဣသရေလ
အမျိုး သား အ ပေါင်း တို့ နှင့် တကွ ရှိတ္တိမ် မြို့မှ
ပြောင်း၍၊ ယော်ဒန်မြစ်ကိုမကူးမှီ၊ မြစ်နားတွင်
၂ စားခန်းချကြ၏။ သုံးရက်စေ့သောအခါ၊တပ်မှူး
၃ တို့သည်တပ်တလျှောက်လုံးသို့သွား၍၊-သင်တို့
ဘုရားသခင်ထာဝရဘုရား၏ ပဋိညာဉ်သေတ္တာ
ကိုငင်၊ သေ တ္တာ ထမ်း သော လေဝိ ပရောဟိတ်
လေဝိသား တို့ကိုငင် မြင်လျှင်၊ သင်တို့သည် နေ
၄ ရာပြောင်း၍ လိုက် ရကြမည်။- သေတ္တာ တော်
နှင့်သင်တို့စပ်ကြားကိုအတောင်နှစ်ထောင်ခြား
၍ ခရီးကွာစေရမည်၊ လိုက်ရသော ထမ်းကိုသိ
မည်အကြောင်း၊ သေတ္တာတော်အနီးသို့မချည်း
ဆဲလိုက်ရမည်၊ ဤထမ်းသို့သင်တို့သည်ထခါမျှ
မလိုက်ကြသေးဟု၊လူအပေါင်းတို့အားမှာထား
၅ ကြ၏။-ယောရှုကလည်း၊သင်တို့သည်ကိုယ်ကို
ကိုယ်သန့်ရှင်းစေကြလော့၊ အကြောင်းမူကား၊
နက်ဖန်နေ့၌ထာဝရဘုရားသည်၊ အံ့ဩဘွယ်သော
အမှုတို့ကို သင်တို့တွင်ပြုတော်မူမည်ဟု၊လူများ
တို့အားမှာထားလေ၏။
၆ တဖန်ယဇ်ပရောဟိတ်တို့ကိုခေါ်၍၊ သင်တို့
သည်ပဋိညာဉ်သေတ္တာတော်ကိုထမ်းလျက်၊ လူ
များရှေ့သို့ ကူး သွား ကြ လော့ ဟု၊ ယောရှု ဆို
ထဉ်အတိုင်း၊သူတို့သည်ပဋိညာဉ်သေတ္တာတော်
၇ ကိုထမ်း၍၊လူများရှေ့သို့ သွား ကြ၏။- ထာဝရ
ဘုရားကလည်း၊ယောရှုကိုခေါ်၍၊ငါသည်မောရှေ
နှင့်အတူရှိသကဲ့သို့၊သင်နှင့်အတူရှိသည်ကို
ဣသရေလအမျိုးသား၊ အပေါင်းတို့သည်သိကြ
မည်အကြောင်း၊သူတို့မျက်မှောက်၌သင့်ကိုထ
၈ နေ့ ငါချီးမြှင့်စ ပြုမည်။- ပဋိညာဉ် သေတ္တာကို

ထမ်းသောထေဗ်ပရောဟိတ်တို့သည်၊ ယော်ဒန်
မြစ်ရေနားသို့ရောက်သောအခါ၊ ယော်ဒန်မြစ်၌
ရပ်နေရမည် အကြောင်းကို ဆင့်ဆိုလော့ဟုမိန့်
၉ တော်မူ၏။- ယောရှု ကလည်း၊ လာကြ လော့၊
သင်တို့ဘုရား သခင် ထာဝရ ဘုရား၏ စကား
တော်ကို နားထောင်ကြလော့ဟု၊ ဣသရေလအ
၁၀ မျိုးသားအပေါင်းတို့ကိုခေါ်လျက်၊- အသက်ရှင်
တော်မူသော ဘုရားသခင်သည်သင်တို့တွင်ရှိ၍၊
သင်တို့ရှေ့မှ ခါနာန်လူ၊ ဟိတ္တိလူ၊ ဟိဝိလူ၊ ဖေရ
ဇိလူ၊ ဂိရဂါရှိလူ၊ အာမောရိလူ၊ ယေဗုသိလူတို့
ကိုစင်စစ်နှင်ထုတ်တော်မူမည်အကြောင်းကိုအ
၁၁ ထယ်သို့သိရမည် နည်း တမူကား၊- မြေကြီးတ
ပြင်လုံးကိုအစိုးရတော်မူသော ထာဝရဘုရား၏
ပဋိညဉ်သစ်တာသည်သင်တို့ရှေ့မှာ၊ ယော်ဒန်
၁၂ မြစ်ထဲသို့ ကူးသွားလိမ့်မည်။- သို့ဖြစ်၍၊ ဣသ
ရေလအမျိုးများထဲက၊ တမျိုးတယောက်စီ၊ လူ
တ ဆယ် နှစ် ယောက် တို့ကို ရွေး ကောက် ကြ
၁၃ လော့၊-မြေကြီး တပြင် လုံးကို အစိုး ရ တော်မူ
သောအရှင်ထာဝရ ဘုရား၏ သစ်တာ တော်ကို
ထမ်းသောထေဗ်ပရောဟိတ် ခြေဖဝါးတို့သည်၊
ယော်ဒန်မြစ်ရေကိုနင်းသောအခါချင်းတွင်၊မြစ်
ညာရေသည်ပြတ်၍၊ ပုံ့ပုံ့ကြွ ထွက် နေလိမ့်မည်
ဟုဆိုလေ၏။
၁၄ လူများတို့ သည်ယော်ဒန်မြစ် ကို ကူးခြင်းငှါ
ငှါ၊ထဲထိုမှပြောင်း၍၊ပဋိညဉ်သစ်တာကိုထမ်း
သော ထေဗ် ပရောဟိတ် တို့ သည် လူများရှေ့မှာ
၁၅ သွားလျက်၊- ယော်ဒန်မြစ်နားသို့ရောက်၍၊ခြေ
ဖဝါးတို့သည် လှုံ့သော ရေကို နင်းသော အခါ၊
ပေါ်းမိတ်ရာကာလ၌ထိုမြစ်ရေသည်၊ ကမ်း ထ
၁၆ ရှောက်ထုံးထိုလျှံလေ့ရှိသော်လည်း၊- မြစ်ညာ
ထမှသော ထော ရေသည် တန့်ရပ်၍၊ ဝေးသော
အရပ်၊ ဇာရတန်မြို့နားမှာရှိသော အာဒံမြို့တိုင်
အောင်ပုံ့ပုံ့ကြွထွက်နေ၏၊ လွင်ပြင် အိုင်တည်း
ဟူသော၊ သောရုံအိုင်သို့စီးသွားသော ရေသည်
ထည်း၊ အကုန် အစင် ပြတ်၍၊ လူ များတို့ သည်
၁၇ ယေရိခေါမြို့ သို့ ရှေ့ ရှု ကူး ကြ ၏။- လူ များ အ
ပေါင်းတို့သည်ယော်ဒန်မြစ် ဟာဖက်သို့မရောက်
မှီတိုင် အောင်၊ ထာဝရ ဘုရား၏ ပဋိညဉ် သစ်
တာကိုထမ်းသောထေဗ်ပရောဟိတ်တို့သည်၊မြစ်
အလယ်တွင် ခြေဖေါ်၌ မြဲမြဲစွာနင်း၍၊ ဣသရေ
လ အမျိုးသား အ ပေါင်း တို့ သည် ခြေ ပေါ်၌
ရှောက်သွားရကြ၏။

၄

၁ လူ အ ပေါင်းတို့ သည် တယောက်မျှ မကြွင်းအ
ယော်ဒန်မြစ်ကို ကူးကြပြီးမှ၊ထာဝရဘုရားက၊-
၂ လူများတို့တွင် တမျိုး တယောက်စီ၊ လူတဆယ်
၃ နှစ် ယောက်ကို ရွေးကောက် ၍၊- သူတို့ ထည့်
ယော်ဒန်မြစ်အလယ်၊ ထဗ်ပရောဟိတ် တို့မြဲမြဲ
စွာနင်းရာ၊ ဤအရပ်ထဲက ကျောက်တဆယ်နှစ်
လုံးကို ယူပြီး လျှင်၊ ထမ်း သွား၍၊ ယနေ့ ညည့်
စားခန်းချ ရာ အရပ်၌ ထားရ မည် အ ကြောင်း
ဆင့်ဆိုလော့ဟု၊ယောရှုအားမိန့်တော်မူသည်
၄ အတိုင်း၊- ယောရှု သည် ခန့်ထားနှင့်သော ဣသ
ရေလအမျိုး၊တမျိုးတယောက်စီ၊လူတဆယ်နှစ်
၅ ယောက်ကိုခေါ်၍၊- သင်တို့ဘုရားသခင်ထာဝ
ရဘုရား၏ သစ်တာ တော် ရှေ့၊ ယော်ဒန် မြစ်အ
လယ်သို့ကူးသွား၍၊ဣသရေလအမျိုးအရေအ
တွက်အတိုင်း၊ လူတယောက် ကျောက်တလုံးစီ
၆ ထမ်း၍ ထမ်း သွား ကြ လော့။- ရှေ့ကာလ၌၊ ထိုကျောက်
သောကိုရကြလိမ့်မည်၊ နောင်ကာလ၌သင်တို့၏
သားသြီးတို့က၊ ဤကျောက်တို့သည်အဘယ်သို့
၇ ဆိုလိုသနည်းဟုမေးမြန်းလျှင်၊- သင်တို့က၊ထာ
ဝရဘုရား၏သစ်တာတော်သည်ယော်ဒန်မြစ်ကို
ကူး သော အ ခါ၊ သစ် တာ တော် ရှေ့မှာ မြစ်ရေ
ပြတ်လေသည်ဟု ပြန်ပြောရကြမည်၊ ထိုသို့ဤ
ကျောက် တို့သည် အစဉ် မပြတ် ဣ သရေလ အ
မျိုးသားအောင်းအမှတ်ရာဘို့ ဖြစ်ကြလိမ့်မည်ဟု၊
၈ ယောရှုမှာ ထားသည်အတိုင်း၊- ဣသရေလ အ
မျိုးသားတို့သည် ပြုကြ၏၊ ထာဝရ ဘုရားသည်
ယောရှု အား မိန့်တော် မူသည်နှင့် အညီ၊ ဣသ
ရေလ အမျိုး အရေ အတွက် အတိုင်း၊ ယော် ဒန်
မြစ်ထဲက ကျောက် တဆယ် နှစ်လုံးကို ယူပြီးမှ၊
စားခန်းချရာအရပ်သို့ထမ်းသွား၍ထားကြ၏။-
၉ တဖန်ထို၊ပဋိညဉ်သစ်တာတော်ကိုထမ်းသော
ထေဗ်ပရောဟိတ်တို့နင်းရာအရပ်၊ ယော်ဒန်မြစ်
အလယ်၌ ကျောက်တဆယ် နှစ်လုံးကို ယောရှု
ထည့်စိုက်ထား၍၊ယနေ့တိုင်အောင်ရှိကြ၏။
၁၀ ယောရှုသည်၊မောရှေမှာထားသည်အတိုင်း၊
လူများတို့အား ဆင့်ဆိုစေခြင်းငှါ ထာဝရ ဘုရား
မိန့်တော်မူသမျှတို့ကိုအကုန်အစင်ပြုသည်တိုင်
အောင်၊သစ်တာတော်ကိုထမ်းသောထေဗ်ပရော
ဟိတ် တို့သည်၊ ယော်ဒန် မြစ် အလယ်၌ ရပ်နေ
ကြ၏၊ လူများတို့သည်လည်းကြိုးစား၍ ကူးကြ
၁၁ ၏။-လူများ အပေါင်းတို့သည် အကုန်အစင်ကူး

ကြပြီးမှ၊ ထာဝရဘုရား၏ ထိမ်းတာ့တော်နှင့် ထ
သွား ယဇ်ပုရောဟိတ် တို့သည် လူများ ရှေ့မှ ထွက်
၁၂ မြောက်တွင်ထွက်ကြ၏။– ရုဗင်အမျိုးသား၊ ဂဒ်အ
မျိုးသား၊ မနာရှေအမျိုး သား ထဝက်တို့ သည်
မောရှေမှာခဲ့သည်အတိုင်း၊ ထက်နက်ကိုစွဲကိုင်
၍၊ ဣသရေလအမျိုးသားတို့ရှေ့မှာကူးသွားကြ
၁၃ ၏။– ထိုအမျိုးသားတို့သည်အရေအတွက်အား
ဖြင့် လေး သောင်းခန့် မျှရှိ၍၊ စစ်တိုက် ခြင်း ငှါ
ဖွင်ဆင်လျက်၊ ထာဝရဘုရားရှေ့တော်၌ ယေရိ
၁၄ ခေါ်လွင်ပြင်သို့ကူးသွားကြ၏။–ထိုနေ့၌ထာဝရ
ဘုရားသည် ဣသရေလအမျိုးသားအပေါင်းတို့
ရှေ့မှာ၊ယောရှုကိုမြှင့်မြှင့်တော်မူ၍၊ သူတို့သည်
မောရှေ ကို ကြောက် ရွံ့ ထ ကဲ့ သို့၊ ယောရှု ကို
ထည့်၊သူ၏အသက်တည်သည်ကာလပတ်လုံး
ကြောက်ရွံ့ကြ၏။
၁၅ ထိုနောက်ထာဝရဘုရားက၊သက်သေခံချက်ထိမ်း
၁၆ တာ တော်ကို ထမ်းသော ယဇ် ပုရောဟိတ် တို့
သည်၊ ယော်ဒန် မြစ် ထဲက တက် လာ ရမည့် အ
ကြောင်း ဆင့်ဆို လော့ဟု မိန့် တော် မူသည် အ
၁၇ တိုင်း၊– ယော်ဒန် မြစ် ထဲက တက်လာ ကြလော့
ဟု၊ ယဇ်ပုရောဟိတ်တို့အားယောရှုသည်ဆင့်
၁၈ ဆိုလေ၏။– ထာဝရဘုရား၏ ပဋိညာဉ် ထိမ်းတာ
ကို ထမ်းသော ယဇ် ပုရောဟိတ်တို့သည်၊ ယော်
ဒန်မြစ် အလယ်ထဲက တက်လာ၍၊ ခြေဖဝါးတို့
သည်ကုန်းကိုနင်းမိကြသောအခါ၊ယော်ဒန်မြစ်
ရေသည် မိမိနေရာသို့ ပြန်လာ၍၊ အရင် ကဲ့ သို့
ထမ်းတာရှောက်လုံးကိုလျှံလျက်နေ၏။
၁၉ ပဌမလ၊ ဒသမနေ့ရက်တွင်၊ လူများတို့သည်
ယော်ဒန်မြစ်ထဲက တက်လာ၍၊ ယေရိခေါ်မြို့အ
ရှေ့ ထက်နားမှာ၊ ဂိလဂါလ အရပ်၌ တပ်ချကြ
၂၀ ၏။–ယော်ဒန်မြစ်ထဲက ထုတ်ယူသော ကျောက်
ဆယ်နှစ်လုံးကို၊ ယောရှုသည် ဂိလဂါလအ
၂၁ ရပ်၌ စိုက် ထား၏။– ဣသရေလ အမျိုး သားတို့
အားဆည်း၊ နောင် ကာလ၌ သင်တို့၏ သားသို့း
တို့က၊ ဤကျောက်တို့သည်အဘယ် သို့ဆိုလိုသ
၂၂ နည်းဟု၊ အဘတို့အား မေးမြန်းလျှင်၊– သင်တို့
က၊ဣသရေလလူတို့သည်မြေပေါ်မှာရှောက်သ
ကဲ့သို့၊ ဤယော်ဒန် မြစ်ကို ကူးလာ ကြသည်ဟု၊
၂၃ သားသို့းတို့အား ကြားပြောရကြမည်။–ထာဝရ
၂၄ ဘုရားသည်တန်ခိုးကြီးတော်မူသည်ကို မြေကြီး
သား အ ပေါင်း တို့သည် သိကြမည် အကြောင်း
နှင့်၊ သင်တို့ ၏ဘုရား ထခင် ထာဝရ ဘုရားကို
သင်တို့သည် အစဉ်အမြဲ ကြောက် ရွံ့ရမည်အ
ကြောင်း။ ငါတို့ သည် ဖို့ ပင် လယ် ကို ကူး ၍၊
ထမ်းတာမတ်သို့မရောက်မှီတိုင်အောင်၊ သင်တို့၏
ဘုရားသခင်ထာဝရဘုရားသည် ငါတို့ရှေ့မှာပင်
လယ်ရေကို ခန်းခြောက် စေ တော်မူသည်နည်း
တူ၊သင်တို့သည်ယော်ဒန်မြစ်ကိုကူး၍၊ထမ်းတ
မတ်သို့မရောက်မှီတိုင်အောင်၊သင်တို့ရှေ့မှာမြစ်
ရေကိုခန်းခြောက် စေတော်မူသည်ဟု၊ ယောရှု
မှာထားလေ၏။

၅

၁ ထာဝရဘုရားသည်ဣသရေလအမျိုးသားတို့
ကူးစေခြင်းငှါ၊ ယော်ဒန်မြစ်ရေကို ခန်းခြောက်
စေတော်မူသည်အကြောင်းကို၊ယော်ဒန်မြစ်အ
နောက်ထက် ၌ နေသော အာ မောရိ မင်းကြီးအ
ပေါင်း၊ ပင်လယ်နားမှာ နေသော ခါ နာန်မင်းကြီး
အပေါင်း တို့ သည် ကြား သိ သော အခါ၊ ရဲ ရင့်
ခြင်း အတွက် အလျှင်း မကြွင်း၊ ဣသရေလ အမျိုး
သားတို့ကြောင့်မိတ်ပျက်ကြ၏။
၂ ထိုအခါ ထာဝရဘုရားသည် ယောရှုကိုခေါ်
၍၊ ထင် သည် ကျောက် ထား၊ ဓားကို လုပ် ပြီး
လျှင်၊ ဣသရေလအမျိုးသားတို့အား အရေဖျား
လှီး၍မင်္ဂလာ ကို ထပ် ပေး လော့ဟု မိန့် တော်မူ
၃ သည်အတိုင်း၊–ယောရှုသည်ကျောက်ထားဓား
ကိုလုပ်၍၊ မိလာရာထုတ် အရပ် ၌၊ ဣသရေလ
အမျိုး သားတို့အား အရေဖျားလှီး မင်္ဂလာကို
၄ ပေးလေ၏။–ထိုသို့အရေဖျားလှီးမင်္ဂလာကိုပေး
ရသောအကြောင်းဟူမူကား၊ အဲဂုတ္တု ပြည်မှ
ထွက်လာသောစစ်သူရဲယောက်ျားအပေါင်းတို့
၅ သည် တော၌ သေ ကြ၏။– ထိုပြည်မှ ထွက် လာ
သောသူအပေါင်းတို့သည် အရေဖျားလှီးမင်္ဂလာ
ကိုခံနှင့်ကြပြီ၊တော၌ ခရီးသွားရာတွင် ဖွားမြင်
သောသူအပေါင်း တို့ မူကား၊ အရေဖျားလှီးမင်္ဂ
၆ လာကိုမခံရကြသေး။– အဲဂုတ္တုပြည်မှထွက်လာ
သော စစ်သူရဲအပေါင်းတို့သည်၊ ထာဝရဘုရား
၏စကားတော်ကိုနားမထောင်ထဲနေ၍၊ မသေမ
ပျောက်မှီတိုင်အောင်၊ ဣသရေလအမျိုးသားတို့
သည် အနှစ်လေး ဆယ် ပတ်လုံး တော၌ လှည့်
လည်ရကြ၏၊ထာဝရဘုရားသည်၊ ငါပေးမည်
ဟု၊ ဘိုးဘေးတို့အားကျိန်ဆိုတော်မူသောမြေ၊
နို့နှင့်ပျားရည်စီးသောပြည်ကို၊ထိုသူတို့သည်
၇ မြင်ရကြဟုကျိန်ဆိုတော်မူ၏။– သူတို့ကိုယ်စား
ဖြစ်စေတော်မူသော၊သူတို့၏သားများတို့သည်၊

လမ်း၌အရေဖျားလှီးမင်္ဂလာကိုမခံရသေးသော
ကြောင့်၊ ယောရှုသည်အရေဖျားလှီးမင်္ဂလာကို
၈ ပေးလေ၏။–လူအပေါင်းတို့သည်အရေဖျားလှီး
မင်္ဂလာကိုခံပြီးမှ၊အနာမပျောက်မှီတိုင်အောင်၊
၉ တပ်ထဲ၌နေကြ၏။– ထာဝရဘုရားကလည်း၊ အဲ
ဂုတ္တုပြည်နှင့် ဆိုင်သော ကဲ့ရဲ့စရာအကြောင်း
ကို၊ သင်တို့မှ ယနေ့ ငါပယ်ရှင်းပြီဟု၊ ယောရှု
အားမိန့်တော်မူ၏၊ သို့ဖြစ်၍၊ ထိုအရပ်ကို ဂိလ
ဂါလဟု၊ယနေ့တိုင်အောင်ခေါ်ဝေါ်သတည်း။
၁၀ ဣသရေလ အမျိုးသားတို့သည် ဂိလဂါလအ
ရပ်တွင်တပ်ချ၍၊ ထိုလ၊တဆယ်လေးရက်နေ့၊
ညဦးယံ၌ ယေရိခေါ်လွင်ပြင်မှာ ပသခါပွဲကိုခံ
၁၁ ကြ၏။–ပသခါပွဲကိုခံပြီးမှ၊ နက်ဖြန်နေ့၌ ခါနာန်
စပါး ဖြင့် လုပ်သော တဆေး မဲ့ မုန့် နှင့် ပေါက်
ပေါက်ကို တနေ့ချင်း တွင် စားရကြ၏။– ခါနာန်
ပြည် စပါးကိုစား၍၊နက်ဖြန်နေ့၌ မန္န ပြတ်လေ
၏။နောက်တဖန်ဣသရေလအမျိုးသားတို့သည်
မန္နကိုမရကြ၊ ထိုနှစ်တွင်ခါနာန်ပြည်၌ဖြစ်သော
အသီးအနှံကိုစားရကြ၏။
၁၃ ယောရှုသည်ယေရိခေါ်မြို့အနားမှာရှိနေစဉ်၊
မျှော်ကြည့်၍၊လူတယောက်သည်ထားကိုထား
အိမ်မှထုတ်ကိုင်လျက်၊ကန့်လန့်ရပ်နေသည်ကို
မြင်လျှင်၊သူထံသို့သွား၍၊သင်သည်ငါတို့ဘက်
၌နေသောသူလော၊ငါတို့ရန်သူဘက်၌နေသော
၁၄ သူလောဟုမေးသော်၊– ထိုသူက၊ ထိုသို့မဟုတ်၊
ထာဝရဘုရား၏ ဗိုလ်ခြေကို အုပ်စိုးသော ဗိုလ်
မှူးဖြစ်၍၊ ယခု ငါလာ သည်ဟု ဆို၏၊ ယောရှု
သည် ထည်း၊ မြေ ပေါ်မှာ ပြပ် ဝပ် ကိုး ကွယ်
လျက်၊ ကိုယ် တော် ကျွန် အား အဘယ် သို့ မိန့်
၁၅ တော်မူမည်နည်းဟုမေးလျှောက်သော်၊– ထာဝ
ရဘုရား၏ဗိုလ်ခြေကို အုပ်စိုးသော ဗိုလ်မှူးက၊
သင်၏ ခြေနင်းကို ချွတ်လော့၊ သင်နင်းသောအ
ရပ်ကား၊မြေမြတ်ဖြစ်သည်ဟုဆိုသည်အတိုင်း၊
ယောရှုပြုလေ၏။

## ၆

၁ ထိုအခါ ဣသရေလ အမျိုးသား တို့ကြောင့်၊
ယေရိခေါ်မြို့သည် ခြပ်တည်း စွာ ပိတ်ထား
လျက်ရှိ၍၊ ထွက်သောသူ၊ ဝင်သောသူတစုံတ
၂ ယောက်မျှမရှိသည် နှင့်အညီ၊– ထာဝရဘုရား
က၊ကြည့်ရှုလော့၊ယေရိခေါ်မြို့၊ ယေရိခေါ်မင်း
ကြီးနှင့်တကွ၊ ခွန်အားကြီးသောစစ်သူရဲ တို့ကို၊
၃ သင့်လက်၌ငါအပ်ပေပြီ၊–သို့ဖြစ်၍၊မြို့ကိုဗျည်
ပတ်ရကြမည်၊ ဣသရေလ စစ်သူရဲ အပေါင်းတို့
သည်၊ ခြောက်ရက်ပတ်လုံး ဗျည်ပတ်ခြင်းအမှု
၄ ကိုပြုရကြမည်။– ယဇ်ပုရောဟိတ်ခုနစ်ယောက်
တို့သည်၊သစ်တာတော်ရှေ့မှာ ယုဘိလ တံပိုး ခု
နစ်လုံးကိုဆောင်ရကြမည်၊ သတ္တမနေ့ရက်၌ခု
နစ်ကြိမ်တိုင်အောင် မြို့ကို ဗျည်ပတ်၍၊ ယဇ်ပု
၅ ရောဟိတ်တို့သည် တံပိုးကိုမှုတ်ရကြမည်။– ယု
ဘိလတံပိုးတို့ကိုရှည်သော အသံနှင့်မှုတ်၍၊ တံ
ပိုးသံကိုကြားလျှင်၊ လူအပေါင်းတို့သည်ကျယ်
သောအသံနှင့်ကြွေးကြော်၍၊မြို့ရိုးသည်အကုန်
အစင်ပြိုလဲရလိမ့်မည်၊ ထိုအခါလူများတို့သည်
တည့်တည့်တက်ရကြမည်ဟု၊ယောရှုအားမိန့်
တော်မူ၏။
၆ နုန်၏သားယောရှုသည် ယဇ်ပုရောဟိတ်တို့
ကိုခေါ်၍၊သင်တို့သည်ပဋိညာဉ်သစ်တာတော်
ကိုထမ်းသွားကြ၊ ထာဝရဘုရား၏ သစ်တာ
တော်ရှေ့မှာ ခုနစ်ယောက် တို့သည် ယုဘိလတံ
ပိုးခုနစ်လုံးကိုဆောင်သွားကြလော့ဟူ၍၎င်း၊–
၇ လူများတို့အားလည်း၊ သင်တို့သွား၍မြို့ကို ဗျည်
ပတ်ကြလော့၊ ထက်နက်ကိုင်တို့သည် ထာဝရ
ဘုရား၏သစ်တာတော်ရှေ့မှာသွားကြလော့ဟူ
၈ ၍၎င်း မှာထား လေ၏။– ယောရှုသည် လူများတို့
အား မှာထား ပြီးမှ၊ ယုဘိလ တံပိုး ခုနစ်လုံး ကို
ဆောင်သောယဇ်ပုရောဟိတ် ခုနစ်ယောက်တို့
သည်၊ထာဝရဘုရားရှေ့တော်၌ တံပိုးမှုတ်လျက်
သွားကြ၏၊ ထာဝရဘုရား၏ ပဋိညာဉ်သစ်တာ
၉ တော်သည်သူတို့နောက်သို့လိုက်လေ၏။–တံပိုး
မှုတ်သောယဇ်ပုရောဟိတ်တို့ရှေ့မှာ၊ထက်နက်
ကိုင်တို့သည်သွား၍၊ ယဇ်ပုရောဟိတ် များ တံ
ပိုးမှုတ်လျက် သွားကြစဉ်၊နောက်တပ်သားတို့
သည် သစ် တာ တော် နောက် သို့ လိုက် ကြ၏။–
၁၀ ယောရှုကလည်း၊ သင်တို့သည် ကြွေး ကြော်စေ
ခြင်း ငှါ၊ ငါမှာ ထား သော နေ့ မရောက်မှီ တွင်မ
ကြွေးကြော်ရ၊ အသံတစုံတခုကိုမျှမပြုရ၊ စကား
တခွန်း ကို မျှ မပြော ရ၊ ထိုနေ့ ရောက် မှ၊ ကြွေး
ကြော်ရကြမည်ဟု၊ လူများတို့အား မှာနှင့်လေ
၁၁ ပြီ။–ထိုသို့ထာဝရဘုရား၏သစ်တာတော်သည်
မြို့ကိုတကြိမ် ဗျည်ပတ်ဝိုင်းသွားပြီးလျှင်၊ တပ်
ထဲသို့ဝင်ပြန်၍ညဉ့်ကိုလွန်စေကြ၏။
၁၂ နံနက်စောစောယောရှုသည်ထ၍၊ယဇ်ပုရော
ဟိတ်တို့သည်ထာဝရဘုရား၏သစ်တာတော်ကို
၁၃ ထမ်းယူကြ၏၊–ထာဝရဘုရား၏သစ်တာတော်

ရှေ့မှာ၊ ထုအိုထတံပိုးရှနှစ်လုံးကို ဆောင် သော ယဇ်ပရောဟိတ်ခုနှစ်ယောက် တို့သည်သွား၊ မြဲ သွားး၍တံပိုးမှုတ်ကြ၏။ထက်နက်ကိုင်တို့သည် ထုတို့ ရှေ့မှာ သွားး၍၊ ယဇ်ပရောဟိတ်များ တံ ပိုးမှုတ်လျက် သွားကြစည်၊ နောက်တပ်သားတို့ ထည်ထာဝရဘုရား၏ သစ်တာတော်နောက်သို့
၁၄ လိုက် ကြ၏။- ဒုတိယ နေ့၌ မြို့ ကို တကြိမ် လှည့် ပတ် ပြီး မှ၊ တပ် ထဲ သို့ ပြန် ထာ ကြ ၏။ ထို သို့
၁၅ ခြောက် ရက် ပတ်လုံး ပြု ကြ၏။- သတ္တမ နေ့ ၌ နံ နက်စောစော၊ မိုဃ်းထင်းစကထ၍၊ အရင်နည်း ထူ၊ ခုနှစ်ကြိမ် တိုင်အောင်မြို့ကိုလှည့်ပတ်ကြ၏၊ ထိုနေ့၌ သာ ခုနှစ်ကြိမ် တိုင်အောင် မြို့ကို လှည့်
၁၆ ပတ် ရကြ၏၊- သတ္တမ အကြိမ်တွင် ယဇ် ပရော ဟိတ်တို့သဉ် တံပိုးမှုတ်သောအခါ၊ ယောရှုက၊ ကျွေးကြော်ကြလော့၊ ထာဝရဘုရားသည် သင်
၁၇ တို့အားမြို့ကိုပေးတော်မူမည်။- မြို့နှင့်တကွ၊ မြို့၌ ရှိသမျှတို့ကိုကျိန်၍၊ထာဝရဘုရား၌အပ်ရမည်။ ထိုရာတွင်၊ ပြည် တန် ဆာ ရာခပ် ထည် ငါတို့စေ လွှတ်သောတမန်တို့ကို ဝှက်ထားသောကြောင့်၊ ထုနှင့်တကွ၊သူ၏အိမ်၌ရှိသမျှ တို့အားအသက်
၁၈ ချမ်းသာ ပေး ရမည်။- သင် တို့ သည် ကျိန် အပ် သော အ ရာကို သတိနှင့် ရှောင် ကြလော့။ သို့မ ထုတ်၊ ထိုအရာကို သိမ်း ယူ လျှင်၊ မိမိတို့ကိုင်၊ ဣသရေလ တပ် ကို ၎င် အ ကျိန် ခံ စေ ၍၊ နှောင့်
၁၉ ရှက် မည် ကို စိုး ရိမ် စရာ ရှိ၏။-ရွှေ ငွေ ကို ၎င်၊ ကြေးဝါတန်ဆာ၊ သံတန်ဆာရှိသမျှ တို့ကို၎င်၊ ထာဝရဘုရားအဖို့သန့်ရှင်းစေ၍၊ဘဏ္ဍာတော် ထဲသို့သွင်း ထား ရကြ မည်ဟု၊ လူများ တို့ အား ယောရှုသည်မှာထားလေ၏။

၂၀ ထို သို့နှင့် အညီ တံပိုး ကို မှုတ်၍၊ လူများ တို့ ထည် ကျွေး ကြော် ကြ၏။ တံပိုး သံကို ကြား၍၊ ကျယ် သော အသံနှင့် ကျွေး ကြော် ကြသော အ ခါ၊ မြို့ရိုးသည် အကုန် အစင် ပြိုလဲ၍၊လူများ အ ပေါင်းတို့သည်မြို့ထဲ သို့တည့်တည့်ဝင်ပြီ၊လျှင်၊
၂၁ သိမ်းယူကြ၏၊-မြို့ထဲ၌ရှိသမျှသောယောကျ်ား၊ မိန်းမ၊ အကြီး၊ အ ငယ်၊ သိုး၊ နွား၊ မြည်း ရှိသမျှ တို့ကို
၂၂ ထားနှင့်ရှင်းရှင်းဖျက်ဆီးကြ၏။- ထိုပြည်ကိုစူး စမ်း သော လူ နှစ် ယောက် တို့အား ယော ရှု က၊ သင် တို့သည် ကျိန်ဆိုသည် အတိုင်း၊ ပြည်တန် ဆာမိန်းမအိမ်သို့သွား၍၊သူနှင့်တကွ၊သူ၌ရှိသမျှ တို့ကို ဆောင်ခဲ့ ကြလော့ ဟု မှာ လိုက်သည် အ
၂၃ တိုင်း၊-ထံလျှို လုပ်သော လုထင်တို့သည် ဝင်၍၊ ရာခပ်နှင့် ထုမိထာ၊ ထုမောင်များ၊ ထု၌ရှိသမျှတို့ ကို၎င်၊ ထုပေါက်ဖော်အပေါင်းတို့ကို၎င် ထုတ် ဆောင် ခဲ့၍၊ ဣသ ရေ လ တပ် ပြင် မှာ ထား ပြီး
၂၄ လျှင်၊-မြို့နှင့်တကွ၊ မြို့၌ရှိသမျှတို့ကိုမီး ရှို့ကြ၏။ ထိုရာတွင်၊ ရွှေငွေကို၎င်၊ ကြေးဝါ တန်ဆာ၊ သံ တန်ဆာတို့ကို၎င်၊ထာဝရဘုရား၏ဘဏ္ဍာတော်
၂၅ ထဲသို့ သွင်းထားကြ၏။- ယောရှု ထည်ထည်။ ပြည်တန်ဆာရာခပ်နှင့်သူပေါက်ဖော်၊ သူ၌ရှိသ မျှတို့ကို အသက် ချမ်းသာပေး၍၊ ထုထည် ဣသ ရေလအမျိုးသားတို့တွင် ယနေ့တိုင်အောင်နေရ လေ၏။ အကြောင်းမူကား၊ ယေရိခေါမြို့ကို စူး စမ်းစေခြင်းငှါ၊ ယောရှုစေလွှတ်သော တမန်တို့
၂၆ ကို ထုထည်ဝှက်ထားသောကြောင့်တည်း။- ထို အခါ ယောရှုက၊ အကြင်သူထည် ထ၍၊ ယေရိ ခေါမြို့ကိုတည်ပြန်၏၊ ထိုသူ ထည်ထာဝရဘုရား ရှေ့တော်၌ ကျိန်အပ်သော ထုဖြစ်ပါစေ၊ ထုထဦး သားဦး၊ ထက် ထက် ၌ မြို့ရိုး အမြစ်ကို ထည်၍၊ ထားအငယ်၊လက်ထက်၌မြို့တံခါးတို့ကိုထောင်ပါ
၂၇ စေ ထု ကျိန် ဆို၏၊- ထိုသို့ ထာဝရ ဘုရား ထည် ယောရှုနှင့် အတူ ရှိတော်မူ၍၊ သူ၏ သိတင်းထည် တပြည်လုံး၌ နှံ့ပြားကျော်စောလေ၏။

၇

၁ ထိုရာတွင်၊ ယုဒ အမျိုး၊ ဇေရ၊ ဇာဗဒိ၊ ကာမိ တို့မှ ဆင်း သက် သော အာခန် ထည်၊ ကျိန်အပ် သော အရာကို သိမ်းယူ၍၊ ထိုအရာအားဖြင့် ဣ သရေလ အမျိုး သား တို့သည် ပြစ်မှားသော အ ပြစ်ရှိသောကြောင့်၊ထာဝရဘုရားသည်ထုတို့၌
၂ အမျက်ထွက်တော်မူ၏။- ယောရှုထည်ထည်။ ယေရိခေါမြို့မှလူတို့ကိုစေလွှတ်၍၊ထင်တို့သည် ဗေသလမြို့အရှေ့၊ ဗေသဝင်မြို့အနားမှာရှိသော အာဣမြို့သို့ သွား၍၊ ထိုပြည်ကိုကြည့်ရှုကြလော့ ဟုမှာထား သည် အတိုင်း၊ လူတို့ထည် သွား၍၊
၃ အာဣမြို့ကိုကြည့်ရှုပြီးလျှင်၊-ယောရှုထံသို့ပြန် ထာ၍၊ ဤလူ တို့ကို အကုန် အရှင် မသွား ပါစေ နှင့်၊ လူ နှစ်ထောင်၊ သုံးထောင် ထောက် သွား၍၊ အာဣမြို့ကိုလုပ်ကြံပါစေ။ ထိုမြို့သို့သွားရာတွင်၊ ဤလူအပေါင်းတို့ကို မပင်ပန်းပါစေနှင့်။ မြို့သား
၄ တို့သည် မများပါဟု လျှောက်ထည်နှင့် အညီ။- လူသုံးထောင်ခန့်မျှ ဗိုလ်သွား၍၊ အာဣမြို့သားတို့
၅ ရှေ့မှာပြေးရကြ၏။- အာဣမြို့သားတို့ ထည် လူ သုံးဆယ်ခြောက်ယောက် တို့ကို သတ်ကြ၏။ မြို့ တံခါးမှသည် ရှေဗရိမ်အရပ် တိုင်အောင်လိုက်



 

၍၊ ထိုအရပ်၌ ဆင်းရာတွင် ထုပ်ကြီး ကြသော
ကြောင့်၊ လူများတို့၏ မိတ် နှစ်လုံးသည် အရည်
၆ ကြို၍၊ ရေကဲ့သို့ ဖြစ် လေ၏။- ထိုအခါ ယောရှု
သည် မိမိအဝတ်ကို ဆုတ်၍၊ ဣသရေလ အမျိုး
အသက်ကြီးသူတို့ နှင့်တကွ၊မိမိတို့ခေါင်းပေါ်၌
မြေ မှုန့်ကို တင်၍၊ ထာဝရ ဘုရား၏ သစ် တာ
တော်ရှေ့မှာ ညဦး တိုင်အောင် ဝပ်လျက် နေကြ
၇ ၏။-ယောရှုကလည်း၊အိုအရှင်ထာဝရဘုရား၊
ကိုယ်တော်သည် ဤလူအပေါင်းတို့ကိုအာမော
ရိလူတို့ ထက် သို့ အပ်၍၊ ဖျက် ဆီး စေ ခြင်း ငှါ
ယော်ဒန်မြစ် တဖက်သို့အဘယ်ကြောင့် ဆောင်
ခဲ့တော် မူ သ နည်း။ အကျွန်ုပ် တို့ သည် ရောင့်ရဲ
သောမိတ်ရှိ၍၊ ယော်ဒန်မြစ်အရှေ့ထက်၌နေကြ
၈ ပါ စေ သော။- အို ဘုရားရှင်၊ ဣသရေလ အမျိုး
သားတို့သည် ရန်သူတို့ ရှေ့မှာ ကျောကို လှည့်ရ
ကြသည်ဖြစ်၍၊အကျွန်ုပ်သည်အဘယ်သို့ပြော
၉ ရပါမည်နည်း။- ခါနနိ လူ အစရှိသော၊ ဤပြည်
သူပြည် သား အ ပေါင်းတို့ သည် ထိုသိ တင်းကို
ကြားလျှင်၊ အကျွန်ုပ်တို့ကိုဝိုင်း၍၊ အကျွန်ုပ်တို့
၏နာမည်ကိုမြေကြီးမှပယ်ရှင်းကြပါလိမ့်မည်။
ကိုယ်တော်သည်ကြီးမြတ်သော နာမတော်အဖို့
အလိုငှါ အဘယ် သို့ ပြုတော် မူ မည် နည်း ဟု
လျှောက် ဆို၏။
၁၀ ထာဝရ ဘုရား ကလည်း၊ ထလော့၊ အဘယ်
၁၁ ကြောင့် ဝပ်၍ နေသ နည်း။- ဣသရေလ အမျိုး
သည် ပြစ် မှား ပြီ။ ငါမှာ ထား သော ပဋိညဉ်
တရားကို ဖျက် လေပြီ။ ကျိန် အပ်သော အရာကို
ခိုးယူ၍၊ ပရိယာယ် ပြု သ ဖြင့် မိမိ ဥစ္စာ ထဲမှာ
၁၂ ထားလေပြီ။- ထိုသို့ ဣသရေလ အမျိုး သားတို့
သည် ကျိန် အပ် သောသူ ဖြစ်သောကြောင့်၊ ရန်
သူတို့ရှေ့မှာမခံမရပ်နိုင်၊ကျောကိုလှည့်ရကြ၏။
ကျိန် အပ် သော သူကို သင်တို့ အထဲက မပယ်မ
၁၃ ရှင်းလျှင်၊ သင်တို့ နှင့် အတူ ငါမနေ။- ထ၍၊ လူ
များတို့ကို သန့်ရှင်း စေ လော့၊ နက်ဖန် နေ့ အဖို့
ကိုယ်ကိုကိုယ်သန့်ရှင်းစေကြဟု ဆင့်ဆိုလော့၊
ဣသရေလ အမျိုး၏ ဘုရားသခင် ထာဝရဘုရား
မိန့်တော်မူသည်ကား၊၊အို ဣသရေလအမျိုး၊ကျိန်
အပ်သောအရာသည်သင်တို့အထဲ၌ရှိ၏။ ထိုအ
ရာကိုသင်တို့အထဲကမပယ်မရှင်းမှီတိုင်အောင်၊
၁၄ ရန်သူတို့ရှေ့မှာမခံမရပ်နိုင်ကြ။- နက်ဖန်နံနက်
၌သင်တို့သည်အမျိုးအနွယ်အလိုက်ချဉ်းကပ်
ရကြမည်။ထာဝရဘုရား မှတ်တော် မူ သောအ
မျိုးသည်၊အဆွေအမျိုးအလိုက်ချဉ်းကပ်ရကြ
မည်၊ထာပရဘုရားမှတ်တော်မူသောအဆွေအ
မျိုးသည်၊အိမ်ထောင်စုနှင့်ချဉ်းကပ်ရကြမည်။
ထာ ဝရ ဘုရား မှတ် တော် မူ သော အိမ် ထောင်
၁၅ သည်လူအသီးအသီးချဉ်းကပ်ရကြမည်။-ကျိန်
အပ်သော အရာပါလျက်၊ မှတ်တော်မူသောသူမှ
စ၍၊သူ၌ရှိသမျှတို့ကိုမီးရှို့ရကြမည်၊အကြောင်း
မူကား၊သူသည်ထာဝရဘုရား၏ပဋိညဉ်တရား
ကိုဖျက်၍၊ ဣသရေလ အမျိုး၌ အဓမ္မအမှုကိုပြု
လေပြီဟု၊ယောရှုအားမိန့်တော်မူ၏။
၁၆ နံနက်စောစောယောရှုသည်ထ၍၊ဣသရေလ
လူတို့ကိုအမျိုးအနွယ်အလိုက်ဆောင်ခဲ့သဖြင့်၊
၁၇ ယုဒ အ မျိုးကို မှတ် တော် မူ၏။- ယုဒ အ မျိုးကို
ဆောင်ခဲ့သဖြင့်၊ဇေရိအဆွေအမျိုးကိုမှတ်တော်
မူ၏။ ဇေရိအဆွေအမျိုး အိမ်ထောင်စုအသီးအ
သီးတို့ကို ဆောင်ခဲ့သဖြင့်၊ ဇာဗဒိ အိမ်ထောင်
၁၈ ကိုမှတ်တော်မူ၏။- ထိုအိမ်ထောင် လူ အသီးအ
သီးတို့ကိုဆောင်ခဲ့သဖြင့်၊ယုဒအမျိုး၊ဇေရ၊ဇာ
ဗဒိ၊ကာမိတို့မှဆင်းသက်သော အာခန် ကိုမှတ်
၁၉ တော်မူ၏။-ယောရှုကလည်း၊ငါ့သား၊ဣသရေလ
အမျိုး ၏ ဘုရားသခင် ထာ ဝရဘုရားကို ချီးမွမ်း
၍၊ ရှေ့တော်၌ ကိုယ် အပြစ်ကို ဖော်ပြ တောင်း
ပန်ပါလော့။ သင်ပြုမိသောအမှုကိုငါ့အားပြော
ပါလော့။ ဖွက်၍မထားပါနှင့်ဟု၊ အာခန်အား
၂၀ ဆိုလျှင်၊-အာခန်က၊ထုတ်ပါ၏။ ဣသရေလအ
မျိုး၏ ဘုရားသခင်ထာဝရဘုရားကို ကျွန်တော်
ပြစ်မှား ပါပြီ။ ကျွန် တော် ပြုမိ သော အမှု ဟူမူ
၂၁ ကား၊-လုယူသောဥစ္စာတို့တွင်မြတ်သောဗာဗု
လုန်ဝတ်လုံ၊ ငွေ နှစ်ပိဿာ၊ ရွှေတုံးအကျပ်ငါး
ဆယ်ကိုကျွန်တော်မြင်သဖြင့်၊တပ်မက်၍သိမ်း
ယူမိပါပြီ၊ကျွန်တော်တဲအတွင်းမြေ၌မြှုပ်လျက်
ငွေသည်အောက်ဆုံးရှိပါသည်ဟု၊ ယောရှုအား
၂၂ ပြန်လျှောက်လေ၏။- ထိုအခါယောရှုစေလွှတ်
သောသူတို့သည်တဲသို့ပြေး၍၊ထို ဥစ္စာသည်တဲ
အတွင်းမြေ၌မြှုပ်လျက်၊ငွေသည်အောက်ဆုံးရှိ
၂၃ သည်ကိုတွေ့သော်၊-တဲထဲက ထုတ်၍၊ယောရှုထံ
ဣသရေလ အမျိုး သား များရှေ့သို့ ဆောင်သွား
သဖြင့်၊ ထာဝရ ဘုရား ရှေ့တော် ၌ ထားကြ၏။-
၂၄ ယောရှုနှင့် ဣသရေလအမျိုးသားအပေါင်း တို့
သည်၊ ဇေရသား အာခန်မှစ၍၊ ထိုငွေ၊ဝတ်လုံ၊
ရွှေတုံး၊ သားသမီး၊ သိုး နွားမြည်း၊ တဲနှင့်တကွ၊သူ၌
ရှိသမျှ တို့ကို အာခေါ် ချိုင့် သို့ ဆောင် သွားပြီး

၂၅ မှ၊- ယောရှုက၊ငါတို့ကိုအဘယ်ကြောင့်နှောင့်
ရှက်သနည်း၊ယနေ့ထာဝရဘုရားသည်သင့်ကို
နှောင့်ရှက်တော်မူမည်ဟုဆိုသဖြင့်၊ ဣသရေလ
အမျိုးသားအပေါင်းတို့သည် ကျောက်ခဲနှင့်ပစ်
ကြ၏၊ ကျောက်ခဲနှင့်ပစ်ကြပြီးမှ၊ မီးရှို့ကြ၏၊-
၂၆ သူ့အပေါ်၌များစွာသောကျောက်တို့ကိုပုံထား
ကြ၍ယနေ့တိုင်အောင်ရှိ၏၊ထာဝရဘုရားသည်
လည်း၊ အမျက်တော် အရှိန်ကို ငြိမ်းစေတော်မူ
၏၊ထို အမှု ကို အစွဲပြု၍၊ ထို ချိုင့်ကို ယနေ့ တိုင်
အောင်၊အာခေါ်ချိုင့်ဟုခေါ်ဝေါ်ကြသတည်း။

၈

၁ တဖန် ထာဝရ ဘုရား ကလည်း၊ သင် သည်မ
ကြောက်နှင့်၊ စိတ်မပျက်နှင့်၊ သင်၌ ပါသောစစ်
သူရဲအပေါင်းတို့ကို ခေါ်၍၊အာဣမြို့သို့ထသွား
လော့၊အာဣမင်းကြီးနှင့်သူ့လူများ၊သူ့မြို့၊သူ့မြေ
၂ ကိုသင့်လက်၌ ငါအပ်မည်၊- ယေရိခေါ မြို့နှင့်
မင်းကြီးအားပြုသကဲ့သို့၊ အာဣမြို့နှင့် မင်းကြီး
အားပြုရမည်၊ ထိုရာတွင်၊ လုယူသောဥစ္စာ၊ တိ
ရိစ္ဆာန်များကိုကိုယ်အဖို့သိမ်းရမည်၊မြို့နောက်
မှာကင်းတပ်ကိုထားရမည်ဟု၊ ယောရှုအား မိန့်
၃ တော်မူသည် အတိုင်း၊- ယောရှုနှင့် စစ်သူရဲ အ
ပေါင်းတို့သည်၊ အာဣမြို့ကို တိုက်ခြင်းငှါထကြ
၏၊ယောရှုသည် ခွန်အား ကြီးသော စစ်သူရဲသုံး
သောင်းတို့ကို ရွေးချယ်၍၊ ညဉ့်အခါ စေလွှတ်
၄ လျက်၊- သင်တို့သည် ထိုမြို့ကို တိုက်ခြင်းငှါ မြို့
နောက်မှာကင်းထိုးလျက်နေကြလော့၊မြို့နှင့်ဝေး
ဝေးခွာ၍မသွားကြနှင့်၊ တညီတညွတ်တည်းအ
၅ သင့် နေကြလော့၊- ငါနှင့်တကွ ငါ၌ ပါသောသူ
အပေါင်းတို့သည်မြို့အနီးသို့ချဉ်းကပ်မည်၊သူ
တို့သည် ယမန်ကဲ့သို့တိုက်ခြင်းငှါ ထွက်လာကြ
သော အခါ၊ ငါတို့သည် သူတို့ ရှေ့မှာ ပြေးရကြ
၆ မည်၊-သူတို့လည်းလိုက်ခြင်းငှါ မြို့ထဲက ထွက်
၍၊မြို့နှင့်ကွာမှန်းကို မသိဘဲ ခွာ၍ လိုက်ကြလိမ့်
မည်၊အကြောင်းမူကား၊ သူတို့ရှေ့မှာငါတို့သည်
ပြေးသောအခါ၊ ယမန်ကဲ့သို့ငါတို့ရှေ့မှာပြေးကြ
၇ ပြီဟု၊ သူတို့ဆို ကြလိမ့် မည်၊- ထို အခါ သင်တို့
သည် ကင်းထိုး လျက် နေရာ အရပ်မှထ၍၊မြို့ကို
တိုက်လျှင်၊သင်တို့၏ဘုရားသခင် ထာဝရဘုရား
၈ သည်သင်တို့လက်၌ အပ်တော်မူမည်၊-တိုက်၍
အောင်သောအခါ၊မြို့ကိုမီးရှို့ရကြမည်၊ထာဝရ
ဘုရားမိန့်တော်မူသည်အတိုင်းပြုရကြမည်၊ထို
သို့ငါဆင့်ဆိုသည်ဟု၊ထိုသူတို့အားမှာထားသော
၉ ၏၊-ယောရှုစေလွှတ်သည့်အတိုင်းထိုသူတို့သည်
ကင်းထိုးခြင်းငှါသွား၍၊ ဗေသလမြို့နှင့် အာဣ
မြို့စပ်ကြားတွင်၊ အာဣမြို့အနောက်ဘက်မှာနေ
ကြ၏၊ ယောရှုသည်ထိုညဉ့်တွင် လူများထဲမှာ
၁၀ နေသေး၏၊- နံနက်စောစော ထ၍၊ လူများတို့ကို
ရေတွက်ပြီးမှ၊ ဣသရေလ အမျိုး အသက် ကြီး
သူတို့ နှင့် အတူ၊ အာဣမြို့သို့ အဦး ရှိသွားလေ
၁၁ ၏၊-ယောရှု၌ပါသောစစ်သူရဲအပေါင်းတို့သည်
လိုက်၍၊ မြို့အနီးသို့ရောက်ပြီးလျှင်၊ မြို့မြောက်
ဘက်၌ တပ် ချကြ၏၊ သူတို့ နှင့် မြို့စပ် ကြား မှာ
၁၂ ချိုင့်တချိုင့်ရှိ၏၊- တဖန် အာဣမြို့အနောက်၊ ထိုမြို့
နှင့်ဗေသလမြို့စပ်ကြားမှာ ကင်းထိုးစေခြင်းငှါ၊
၁၃ လူငါးထောင်ခန့်မျှ ထားလေ၏၊- ထိုသို့လျှင်၊မြို့
မြောက် ဘက်မှာ ဗိုလ်ခြေ အပေါင်း ခင်းကျင်း
လျက်၊အနောက်ဘက်မှာအဦးကင်းထိုးလျက်၊
အသီးအသီး နေရာ ကျကြသော အခါ၊ ယောရှု
သည် ထိုညဉ့်တွင် ချိုင့် အလယ်သို့ သွားလေ
၁၄ ၏၊- ထိုအခြင်းအရာတို့ကိုအာဣ မင်းကြီးသည်
မြင်လျှင်၊ မြို့သား ယောက်ျားတို့သည် စောစော
ထ၍၊အလျှင်အမြန်ထွက်ဆင်ပြီးမှ၊မင်းကြီးသည်
လူအပေါင်းတို့နှင့်တကွ၊ဣသရေလအမျိုးသား
တို့ကိုတိုက်ခြင်းငှါ၊ချိန်းချက်သော အချိန်၌လွင်
ပြင်သို့ ရှိသွားလေ၏၊ သို့ရာ တွင်၊ မြို့ နောက်မှာ
၁၅ ကင်းတပ်ရှိမှန်းကို မသိ၊- ယောရှုနှင့် ဣသရေ
လ အမျိုး သား အပေါင်း တို့ သည် ရှုံးဟန်ပြု
၁၆ လျက်၊ တော လမ်း ဖြင့် ပြေး ကြ၏၊- သူတို့ကို
လိုက်ခြင်းငှါ၊ အာဣမင်းကြီးသည်၊ မြို့၌ရှိသမျှ
သောယောက်ျားတို့ကို နှိုးဆော်ပြီးလျှင်၊မြို့သား
တို့သည်ယောရှုကိုလိုက်၍၊မြို့နှင့်ကွာမှန်းမသိ၊
၁၇ ခွာသွားကြ၏၊- ဣသရေလ အမျိုးသား တို့ကိုမ
လိုက်ဘဲ၊အာဣမြို့နှင့် ဗေသလမြို့၌ ယောက်ျား
တယောက်မျှ မနေ၊ မြို့ကိုဖွင့်ထားလျက်၊ ဣသ
၁၈ ရေလ အမျိုး သား တို့ကို လိုက် ကြ၏၊- ထာဝရ
ဘုရားကလည်း၊ သင်ကိုင်သော လှံကို အာဣမြို့
သို့ရွယ်လော့၊ ထိုမြို့ကိုသင့်လက်သို့ ငါအပ်မည်
ဟု၊ယောရှုအားမိန့်တော်မူသည့်အတိုင်း၊ယော
ရှုသည်မိမိကိုင်သောလှံကို ထိုမြို့သို့ရွယ်လေ၏၊-
၁၉ ရွယ်သောအခါ၊ ကင်းတပ် သားတို့သည် ရုတ်
ချည်းထ၍၊ အလျှင် အမြန် ပြေးလျက်၊ မြို့ထဲသို့
ဝင်မိလျှင်၊ ကြိုးစား၍ သိမ်းယူပြီးမှ၊ မီးရှို့ကြ
၂၀ ၏၊-အာဣမြို့သား တို့သည် ပြန် ကြည့်၍၊ မြို့ကို
လောင်သောမီး၏အခိုးသည်မိုဃ်းကောင်းကင်

သို့တက်လျက်ရှိသည်ကို မြင်သောအခါ၊ အ
ထက်အရပ်ကိုမျှ ပြေးခြင်းငှါ မတတ်စွမ်းနိုင်
ကြ။ တောသို့ပြေးသောသူတို့သည်လည်း၊ လိုက်
၂၁ သောသူတို့ကို ပြန်လှန်၍ တိုက်ကြ၏။- ကင်း
ထောင်သားတို့သည် မြို့ကိုရ၍၊ မြို့၌ မီးခိုးတက်
လျက်ရှိသည်ကို ယောရှုနှင့် ဣသရေလ အမျိုး
သားအပေါင်းတို့သည်မြင်လျှင်၊ တဖန်ပြန်လှည့်
၂၂ ၍၊ အာဣမြို့သားတို့ကို တိုက်သတ်ကြ၏။- အ
ခြားသော သူတို့ သည် လည်း မြို့ထဲက ထွက်၍
လိုက်သော ကြောင့်၊ ဣသရေလအမျိုးသား တို့
အလည် အာဣ လူ တို့ ကို ညှပ်၍ တိုက် သဖြင့်၊ တ
ယောက်ကို မျှ မလွတ်၊ မကျန် ကြွင်း စေ ခြင်းငှါ
၂၃ ထုပ်ကြကြ၏။- အာဣမင်းကြီးကိုအရှင်ဖမ်း၍
၂၄ ယောရှုထံသို့ဆောင်ခဲ့ကြ၏။- ဣသရေလအမျိုး
သားတို့သည်လွင်ပြင်၌၎င်း၊ လိုက်ရှာရာတော၌
၎င်း၊ အာဣ မြို့သား အပေါင်း တို့ကိုလုပ် ကြံ၍၊
ထားဖြင့်အကုန်အစင် သုတ်သင်ပြီးမှ၊ တဖန်မြို့
၂၅ သို့ပြန်လာ၍၊ ထားဖြင့်လုပ်ကြံကြ၏။- ထိုနေ့၌
တသောင်း နှစ်ထောင် ခန့်မျှ ရှိသော၊ အာ ဣမြို့
သား ယောက်ျား၊ မိန်းမအပေါင်းတို့သည် သေကြ
၂၆ ၏။- အာဣမြို့သူမြို့သား အပေါင်းတို့ကိုအကုန်
အစင်မဖျက်ဆီးမှီတိုင်အောင်၊ ယောရှုသည်လှံ
၂၇ တိုင် သော လက်ကို မသိမ်း မရုပ်။- သို့ရာတွင်၊
ထာဝရဘုရားသည်ယောရှုအား မှာထားတော်
မူသောစကားအတိုင်း၊ တိရစ္ဆာန်များနှင့်လက်
ရဥစ္စာ များကို၊ ဣသရေလ အမျိုး သားတို့ သည်
၂၈ ကိုယ်အဖို့သိမ်းယူကြ၏။- ယောရှုသည်လည်း၊
အာဣ မြို့ကိုမီးရှို့၍၊ ယနေ့ တိုင်အောင်၊ ထာဝရ
၂၉ ဖျက်ဆီးရာအမှိုက်ပုံဖြစ်စေ၏။- အာဣ မင်းကြီး
ကို ညဦး တိုင်အောင်၊ သစ်ပင်တွင် ဆွဲထား၍၊
နေဝင်၊ ချုပ် သော အခါ၊ ယောရှု စီရင် သည်အ
တိုင်း၊ အသေကောင်ကိုသစ်ပင်ကချပြီးလျှင်၊ မြို့
တံခါးဝ၌ ပြစ်ထား၍၊ အသေကောင် အပေါ်၌
များ စွာ သော ကျောက် တို့ကို စုပုံ ကြ၏။ ထို
ကျောက်ပုံသည်ယနေ့တိုင်အောင်ရှိ၏။
၃၀ ထိုအခါယောရှုသည်၊ ဧဗလ တောင် ပေါ်မှာ
ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရ ဘုရား
၃၁ အဖို့၊ယဇ်ပလ္လင်ကိုတည်ထေ၏။-ထာဝရဘုရား
၏ကျွန်မောရှေသည်၊ ဣသရေလ အမျိုးသားတို့
ကို မှာ ထား၍၊ မောရှေ ၏ ပညတ္တိ ကျမ်း၌ ရေး
မှတ်လျက် ရှိသည် အတိုင်း၊ သံ တန် ထား မပါမ
သုံးသဲ၊ မကွဲမပြတ် သော ကျောက်တို့ဖြင့် ယဇ်
ပလ္လင်ကို တည်၍၊ ထာဝရ ဘုရားအဖို့ မီးရှို့ရာ
ယဇ်၊ မိဿဟာယ ယဇ် တို့ကို ပူဇော်ကြ၏။-
၃၂ ယောရှုသည်လည်း၊ ထိုကျောက်ပေါ်၌ မောရှေ၏
ပညတ်တရားကို၊ ဣသရေလအမျိုးသားတို့ရှေ့
၃၃ မှာ ရေးကူး ထေ၏။- ဣသရေလ အမျိုး သားတို့
ကိုကောင်းကြီးပေးခြင်းအလို့ငှါ၊ ထာဝရဘုရား
၏ကျွန်မောရှေမှာထားခဲ့သည်အတိုင်း၊ ဣသရေ
လအမျိုးအသက်ကြီး၊ မှူးမင်း၊ တရားသူကြီး၊
အမျိုးသားအပေါင်းတို့သည်၊ ယဇ်ပုရောဟိတ်
လေဝိသားထမ်းသောထာဝရဘုရား၏ပဋိညာဉ်
သေတ္တာနှစ်ဖက်၌ရပ်၍၊ အမျိုးသား စစ် နှင့်ဧ
ကျွန်းတနိုင်ငံသားပါလျက်၊ ဂေရဇိမ်တောင်ပေါ်
မှာလူတဝက်၊ ဧဗလ တောင် ပေါ်မှာ တဝက်ထို
၃၄ သည်နေကြလျှင်၊- ပညတ္တိ ကျမ်း၌ ရေးထားသ
မျှသော ကောင်းကြီးမင်္ဂလာစကားနှင့် ကျိန်ခြင်း
အမင်္ဂလာစကားတည်း ဟူ သော၊ တရားစကား
၃၅ အလုံးစုံတို့ကိုဖတ်ရွတ်ထေ၏။- ယောရှုသည်၊
မောရှေမှာထားသော စကား တ ခွန်းကိုမျှ မချန်
မထား၊ မိန်းမ၊ သူငယ်၊ တကျွန်း တနိုင်ငံ သားပါ
သော ဣသရေလ အမျိုး သား ပရိသတ် အပေါင်း
တို့ရှေ့မှာအကုန်အစင်ဖတ်ရွတ်ထေ၏။

၉

၁ ယော်ဒန်မြစ် အနောက်ထက်၊ တောင် ပေါ်၌
၎င်း၊ မြို့နှင့်ထဲ၌၎င်း၊ လေဗနုန် တောင် အစတ်မ
ဟာပင်လယ်ကမ်းတရှောက်လုံး၌၎င်း နေသော
ဟိတ္တိ၊ အာမောရိ၊ ခါနနိ၊ ဖေရဇိ၊ ဟိဝိ၊ ယေဗုသိ
အမျိုးမင်းကြီးအပေါင်းတို့သည်သိတင်းကြား
၂ သောအခါ၊- ယောရှုနှင့် ဣသရေလအမျိုးသား
တို့ကို စစ် တိုက် ခြင်းငှါ၊ တညီ တ ညွတ် ထည်း
စည်းဝေးကြ၏။
၃ ဂိဗောင်မြို့သားတို့သည်ယေရိခေါမြို့၊ အာဣ
မြို့၌ယောရှုပြုသော အမှုကို ကြားသောအခါ၊-
၄ ပရိယာယ်ပြု၍၊ သံတမန်လုပ်လျက်၊ မြည်းပေါ်မှာ
ဟောင်းနွမ်းသောအိတ်တို့ကို တင်၍၊ ဟောင်း
နွမ်းစုတ်ကွဲပဲ့ပျင်သော စပျစ်ရည်သားရေဘူး
၅ တို့ကိုယူကြ၏။- ဟောင်းနွမ်း ဖာထေးသော ခြေ
နင်းကိုစီး၍၊ ဟောင်းနွမ်းသောအဝတ်ကိုထည့်
ဝတ်ကြ၏။ ခြောက် ၍ မှိုတက် လျက် ရှိသော
၆ မုန့်ကို သာ ဆောင် ခဲ့လျက်၊- ယောရှုရှိရာဂိ
လဂါလတပ်သို့ ရောက် လာလျှင်၊ အကျွန်ုပ်တို့
သည်မိဿဟာယဖွဲ့ခြင်းငှါ၊ ဝေးသောပြည်က
လာကြပါသည်ဟု၊ ယောရှုနှင့် ဣသရေလ လူ

၇ ထိုအခါ ပြောဆိုကြ၏၊- ဣသရေလ အမျိုး သား
တို့ကလည်း၊ သင် တို့သည် ငါတို့ အနားမှာ နေ
သည် မနေသည်ကို မသိနိုင်၊ အဘယ်သို့ မိဿ
ဟာယ ဖွဲ့နိုင်သနည်းဟု၊ ဟိဝိလူတို့အား ဆိုကြ
၈ လျှင်၊- သူတို့က၊ အကျွန်ုပ်တို့သည် ကိုယ်တော်
ကျွန်ဖြစ်ပါ၏ဟု၊ ယောရှုအား လျှောက် ဆိုကြ
၏၊ ယောရှုကလည်း၊ သင်တို့သည် အဘယ်သို့
သောသူနည်း၊ အဘယ်အရပ်က လာကြသနည်း
၉ ဟုမေးလျှင်၊- သူတို့က၊ ကိုယ်တော်၏ ဘုရားသ
ခင် ထာဝရဘုရား၏ နာမ တော် ကြောင့်၊ ကိုယ်
တော် ကျွန် တို့သည် အလွန် ဝေးသော ပြည်က
လာပါပြီ၊ ထာဝရဘုရား၏ သိတင်းတော်ကိုရင်၊
၁၀ အဲဂုတ္တုပြည်၌ ပြုတော်မူသမျှကိုရင်၊- ယော်ဒန်
မြစ်အရှေ့ဘက်၌ နေသော အာမောရိ မင်းကြီး၊
ဟေရှဘုန်မြို့ ဘုရင် ရှိဟုန်၊ အာရှတရုတ် မြို့မှာ
နေသော ဗာရှန်မြို့ ဘုရင် ဩဂ တို့၌ ပြုတော်မူ
၁၁ သမျှကိုရင်ကြားပါပြီ၊- ထိုကြောင့်အကျွန်ုပ်တို့
၌ အသက်ကြီးသောသူတို့နှင့် ပြည်သူပြည်သား
အပေါင်းတို့က၊ လမ်းခရီးရိက္ခာကိုယူ၍၊ သူတို့
ကိုခရီးဦးကြိုပြုခြင်းငှါ သွား၊ ကြလော့၊ ငါတို့
သည် သူတို့၏ကျွန်ဖြစ်ကြောင်းနှင့်၊ မိဿဟာယ
ဖွဲ့ရပါမည့် အကြောင်းကို လျှောက် လော့၊ ကြ
၁၂ လော့ဟု မှာ လိုက် ပါ ပြီ၊- ကိုယ်တော် ထံ သို့
ရောက် ခြင်းငှါ ထွက်လာ သောနေ့၌၊ ခရီး
ရိက္ခာဘို့ ကိုယ်အိမ်မှ ဆောင်ယူခဲ့သော၊ ဤမုန့်
သည် ပူနွေးလျက်ရှိပါ၏၊ ယခုကြည့်ပါ၊ အောက်
၁၃ လျက်၊ မှိုတက်လျက် ရှိပါ၏၊- စပျစ်ရည်ပြည့်
သော၊ ဤ သားရေ ဘူးတို့သည် အသစ် ဖြစ်သော်
လည်း၊ ယခုကြည့်ပါ၊ စုတ်ကွဲလျက် ရှိပါ၏၊ ဤ
အဝတ်၊ ဤခြေနင်း ဖိနပ်တို့သည်လည်း အလွန် ခရီး
ဝေး သော ကြောင့်၊ ဟောင်း နွမ်း ပါ ပြီဟု ပြန်
၁၄ လျှောက် ကြ ၏၊- ဣသရေလ လူတို့သည် ထာ
ဝရဘုရား ထံတော်၌ အခွင့် မပန်ဘဲ ထိုသူ တို့၏
၁၅ ရိက္ခာကိုစားကြ၏၊- ယောရှုသည်လည်း၊ သူတို့
ကို စစ်မှုနှင့်လွတ်စေ၍၊ အသက်ရှင်သားစေမည့်
အကြောင်း၊ မိဿဟာယဖွဲ့၏၊ ပရိသတ်မင်း
တို့သည်လည်း ကျိန်ဆိုခြင်းကို ပြုကြ၏၊
၁၆ မိဿဟာယဖွဲ့၍ သုံးရက် လွန်သောအခါ၊ ထို
သူတို့သည် အိမ်နီးချင်း ဖြစ်၍၊ အနား မှာ နေ
ကြောင်းကို ဣသရေလအမျိုးသားတို့သည်ကြား
၁၇ သိလျှင်၊ -ခရီးသွား၍ သုံးရက်မြောက်သောနေ့
၌ ထိုမြို့တို့သို့ ရောက်ကြ၏၊ သူတို့မြို့ကား၊ ဂိ
ဗောင်မြို့၊ ခေဖိရာမြို့၊ ဗေရုတ်မြို့၊ ကိရယတ်ယာ
၁၈ ရိမ်မြို့တည်း၊- ပရိသတ် အကဲအမှူးတို့သည်၊
ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရဘုရား
ကိုတိုင်တည်၍၊ ကျိန်ဆိုခြင်းကိုပြုသောကြောင့်၊
ဣသရေလအမျိုးသားတို့သည် သူတို့ကို မသတ်
ကြ၊ ပရိသတ်အပေါင်းတို့သည်အကဲအမှူး
၁၉ တို့ကို အပြစ်တင်ကြ၏၊- အကဲအမှူးတို့ကလည်း၊
ငါတို့သည် ဣသရေလအမျိုး၏ဘုရားသခင်ထာ
ဝရ ဘုရားကို တိုင် တည် ၍ ကျိန် ဆို ခြင်းကို ပြု
၂၀ သောကြောင့်၊ သူတို့ကိုမထိမခိုက်ရ၊- သူတို့အား
ကျိန်ဆိုမိသောကြောင့်၊ အပြစ်ဒဏ်ရောက်မည်
ကိုစိုးရိမ်၍၊ အသက်ချမ်းသာ ပေး သ ဖြင့်၊ အ
၂၁ ဘယ်သို့ပြုရမည်နည်းဟူမူကား၊- အကဲအမှူး
များကဆိုသည် အတိုင်း၊ အသက်ချမ်းသာပေး
၍၊ ပရိသတ် အပေါင်းတို့ အဖို့ ထင်းခုတ်သော
သူ၊ ရေခပ်သောသူဖြစ်စေရမည်ဟု၊ ပရိသတ်
၂၂ အပေါင်းတို့အား ပြန်ပြော ကြ၏၊- ယောရှုသည်
ထိုသူတို့ကိုခေါ်၍၊ သင်တို့သည်ငါတို့အနား
မှာနေလျက်ပင်၊ ဝေးသောအရပ်ကလာပါပြီဟု
ဆို၍၊ ငါတို့ကိုအဘယ်ကြောင့် လှည့်စားကြသ
၂၃ နည်း၊- ယခုမှာသင်တို့သည် ကျိန်အပ်သောသူ
ဖြစ် သ ဖြင့်၊ ကျွန် ခံ၍၊ ငါ၏ ဘုရား သခင် အိမ်
တော်အဖို့ ထင်းခုတ်ခြင်း၊ ရေခပ်ခြင်းအမှုနှင့်အ
၂၄ ယောက်မျှမလွတ်ရဟုဆို၏၊- သူတို့ကလည်း၊ ဤ
ပြည်တရှောက်လုံးကိုသင်တို့အားပေး၍၊ ပြည်
သူ ပြည်သား အပေါင်းတို့ကို သင်တို့ရှေ့မှ ပယ်
ရှင်းခြင်းငှါ၊ ကိုယ်တော်၏ဘုရားသခင်ထာဝရ
ဘုရားသည် မိမိကျွန်မောရှေအားမှာထားတော်
မူကြောင်းကို၊ ကိုယ်တော် ကျွန် တို့သည်ဧကန်
အကန် ကြားသိ၍၊ သင်တို့လက် ၌ အသက်ဆုံး
မည်ကို အလွန်ကြောက်သောကြောင့်၊ ဤအမှုကို
၂၅ ပြုပါပြီ၊- ယခုမှာကျွန်တော်တို့သည်ကိုယ်တော်
လက်တွင်ရှိပါ၏၊ ကျွန်တော် တို့၌ ပြုကောင်းပြု
သင့်သည်ဟု၊ စိတ်တော် ထင်သည်အတိုင်း ပြု
တော်မူပါဟု၊ ယောရှုအား ပြန်လျှောက်ကြ၏၊-
၂၆ ထိုသို့နှင့်အညီ၊ ယောရှုသည် ပြု၍၊ သူတို့ကိုအ
သက် ချမ်းသာ စေခြင်းငှါ၊ ဣသရေလ လူ ရို
၂၇ လက်မှ ကယ်နှုတ်သဖြင့်၊- ထာဝရဘုရား ရွေး
ကောက်တော်မူသော အရပ်၌ တည်သော ယဇ်
ပလ္လင်တော်အဖို့နှင့်ပရိသတ်တော်အဖို့၊ ထိုသူ
တို့သည် ယနေ့တိုင်အောင် ထင်းခုတ်၍၊ ရေခပ်
ရမည်အကြောင်း၊ ထိုနေ့၌ စီရင်တော်မူ၏၊

## ၁၀

၁ ယောရှုသည်ယေရိခေါမြို့နှင့် မင်းကြီးကိုပြု
ထကဲ့သို့၊ အာဣမြို့နှင့် မင်းကြီးကိုတိုက်ယူ၍
ရှင်းရှင်း ဖျက်ဆီးကြောင်းကိုငှင်၊ ဂိဗောင်မြို့
သားတို့ သည်၊ ဣသရေလ အမျိုးသား တို့ နှင့်
မိဿဟာယ ဖွဲ့၍ အတူနေကြောင်းကိုငှင်၊ ယေ
ရုရှလင် မင်းကြီး အဒေါနိ ဇေဒက် သည် ကြား
၂ သောအခါ၊- ဂိဗောင်မြို့သည်မြို့တော်ကဲ့သို့ကြီး
မွာ သော မြို့၊ အာဣ မြို့ ထက် ကြီး၍၊ မြို့ သား
ယောကျ်ားအပေါင်းတို့သည် ခွန်အားနှင့်ပြည့်
၃ စုံသောကြောင့်၊အလွန်ကြောက်ရွံ့ကြ၏၊-ထိုအ
ခါ ယေရုရှလင်မင်းကြီး အဒေါနိဇေဒက်သည်၊
ဟေဗြုန်မင်းကြီးဟောဟံ၊ ယာရမုတ်မင်းကြီးပိ
ရံ၊လာခိရှမင်းကြီးယာဖျာ၊ ဧဂလုန်မင်းကြီးဒေ
၄ ဗိရထံသို့စေလွှတ်၍၊-ဂိဗောင်မြို့သည်ယောရှု
မှစ၍ ဣသရေလအမျိုးသားတို့နှင့်မိဿဟာယ
ဖွဲ့သောကြောင့်၊ထိုမြို့ကိုလုပ်ကြံခြင်းငှါငါထံသို့
လာ၍၊ငါနှင့်အတူကူညီကြပါဟုမှာစေသည်
၅ အတိုင်း။- ယေရုရှလင် မင်းကြီး၊ ဟေဗြုန်မင်း
ကြီး၊ ယာရမုတ်မင်းကြီး၊ လာခိရှ မင်းကြီး၊ ဧဂ
လုန်မင်းကြီးတည်းဟူသော၊အာမောရိမင်းကြီး
ငါးပါးတို့သည် စည်းဝေး၍၊ မိမိတို့ ဗိုလ်ပါစစ်
သည်အပေါင်းတို့နှင့်တကွစစ်ချီ၍၊ဂိဗောင်မြို့ရှေ့
၆ မှာတပ်ချသျှင်၊စစ်တိုက်ကြ၏။-ဂိဗောင်မြို့သား
တို့သည် ယောရှုရှိရာ ဂိလဂါလမြို့သို့ စေလွှတ်
၍၊ ကိုယ်တော်၏ ကျွန် တို့ကို ကြည့် ရှုလျက်နေ
တော်မမူပါနှင့်၊ အလျင် အမြန်ကြွ ၍ မစကယ်
ထင်းတော်မူပါ၊တောင်ပေါ်မှာနေသော အာ မော
ရိမင်းကြီး အပေါင်း တို့သည်၊ ကျွန် တော် တို့ကို
တိုက်ခြင်းငှါစည်းဝေးကြပါပြီဟုလျှောက်ကြ
၇ ၏။-ယောရှုသည်ထည်း၊စစ်မှုနှင့်ကျင်လည်သော
သူ၊ ခွန်အားကြီးသော သူရဲ အပေါင်းတို့နှင့် တ
၈ ကွ၊ဂိလဂါလမြို့မှ တက်သွား လေ၏။- ထာဝရ
ဘုရားကလည်း၊သူတို့ကိုမကြောက်နှင့်၊ သင်၏
လက်၌ ငါ အပ်မည်၊ သင့် ရှေ့မှာ လူ တ စုံ တ
ယောက်မျှ မခံမရပ် နိုင်ရာဟု၊ ယောရှုအားမိန့်
၉ တော်မူ၏။-ယောရှုသည်ဂိလဂါလမြို့မှတညဉ့်
လုံး ချီသွား၍၊ရန်သူတို့ကိုအမှတ်တမဲ့တိုက်လာ
၁၀ သဖြင့်၊- ထာဝရဘုရားသည်သူတို့ကိုဣသရေလ
အမျိုးသားရှေ့မှာ ရှုံးစေ၍၊ ဂိဗောင်မြို့ အနားမှာ
ကြီးစွာသောလုပ်ကြံခြင်းအားဖြင့်သတ်၍၊ဗေ
သောရုန်မြို့သို့သွားသောလမ်း၌လိုက်လျှက်၊အ
ဇေကာမြို့၊ မက္ကေဒါမြို့ တိုင်အောင် လုပ်ကြံတော်
၁၁ မူ၏။-ထိုသူတို့သည် ဣသရေလလူတို့ရှေ့မှာပြေး
၍၊ဗေသောရုန်မြို့သို့ဆင်းသွားရာတွင်၊ထာဝရ
ဘုရားသည် မိုဃ်း ကောင်းကင်မှ ကြီးစွာ သော
မိုဃ်းသီးကို၊အဇေကာမြို့တိုင်အောင် သူတို့အ
ပေါ်၌ချတော်မူ၍၊ သူတို့သည် ဣသရေလလူတို့
၏ထားကြောင့်သေသည်ထက်မိုဃ်းသီးကြောင့်
၁၂ သေ၍သေကြ၏။- ထိုသို့ အာမောရိ လူတို့ကိုဣ
သရေလအမျိုး သား တို့၌ အပ်တော် မူ သောနေ့
မှာ၊ ယောရှု သည် ထာဝရ ဘုရားကို ဆုတောင်း
ပြီးလျှင်၊ထိုနေ၊ သင်သည် ဂိဗောင်မြို့၌ရပ်၊ထို
လ၊သင်သည် အာယာလုန်ချိုင့်၌ ရပ် ငြိမ်ဝပ်စွာ
နေလော့ဟု၊ဣသရေလအမျိုးသားများရှေ့တွင်
၁၃ မြွက်ဆိုသည်အတိုင်း၊- ဣသရေလ လူတို့သည်
ရန်သူ တို့အား အပြစ်ဒဏ် မပေးမှီတိုင်အောင်၊
နေသည် ငြိမ် ဝပ်စွာ နေ၍၊ လသည် ရပ်လေ၏။
ယာရှာ၏စာ၌ပါသည်ကား၊မိုဃ်းကောင်းကင်
အလယ်၌ နေသည်ရပ်နေ၏၊ ဝင်မြဲဝင်ဆဲ့ သော
ငှါတနေ့လုံး အလျှင် မပြု ဟု ပါ သည် မဟုတ်
၁၄ လော၊- ထာဝရ ဘုရားသည် လူ စကားကို နား
ထောင် ၍၊ ထိုသို့သော နေ့ တ နေ့ မျှ မဖြစ် စဖူး၊
နောက်တဖန်လည်းမဖြစ်၊ အကြောင်းမူကား၊
ထာဝရဘုရားသည် ဣသရေလ အမျိုးအတွက်မှာ
၁၅ စစ်တိုက် တော်မူ၏။- ထိုနောက်၊ယောရှုသည်၊
ဣသရေလ လူ အပေါင်းတို့နှင့်တကွ၊ ဂိလဂါလ
၁၆ တပ် သို့ ပြန်သွား၏။- မင်းကြီး ငါးပါး တို့သည်
ပြေး၍ မက္ကေဒါလှိုင်ခေါင်း၌ပုန်းလျက်နေကြ၏။-
၁၇ မက္ကေဒါလှိုင်ခေါင်း၌ပုန်းလျက်နေသောမင်းကြီး
ငါးပါးကို တွေ့ ပါ ပြီ ဟု၊ ယောရှုအား ကြား
၁၈ လျှောက်လျှင်၊- ယောရှုက၊ လှိုင်ခေါင်းဝ ပေါ်
မှာကြီးစွာသော ကျောက် တို့ ကို လှိမ့် ပုံ၍၊ လူ
၁၉ စောင့်တို့ကို ထားကြလော့။- သင်တို့ မူကား၊မ
ဆိုင်းမထင့်၊ ရန်သူတို့ကို လိုက်၍ မှိသမျှသော
သူတို့ကိုကွပ်မျက်ကြ၊ မြို့ထဲသို့ မဝင်စေကြနှင့်၊
သင်တို့၏ဘုရားသခင် ထာဝရဘုရားသည်သူတို့
ကိုသင်တို့လက်၌ အပ်တော်မူပြီဟုမှာထားလေ
၂၀ ၏။-ယောရှုနှင့်ဣသရေလလူတို့ သည်ရန်သူတို့
ကိုကြီးစွာသောလုပ်ကြံခြင်းအားဖြင့် သုတ်သင်
ပယ် ရှင်း ပြီး၍၊ ကျန် ကြွင်း သော သူ အချို့ တို့
၂၁ သည်၊ ခိုင်ခံ့သော မြို့သို့ ဝင်၍ နေ ကြ၏။-လူအ
ပေါင်းတို့သည် ယောရှုရှိရာ မက္ကေဒါတပ်သို့ ငြိမ်
ဝပ် စွာ ပြန် လာ ကြ၏၊ ဣ သ ရေလ လူ တစုံတ

၂၂ ယောသတ်ကိုအထေယ်သူမှာအပြစ်မတင်ရ။- ယော
ရှုကလည်း၊ လိုဏ်ခေါင်းကိုဖွင့်ပြီးလျှင်၊ ထိုမင်း
ကြီးငါးပါးတို့ကိုလိုဏ်ခေါင်းထဲက ထုတ်၍၊
ငထံသို့ဆောင်ခဲ့ကြဟု မှာထိုက်သည်အတိုင်း၊-
၂၃ သူတို့သည်ပြု၍၊ ယေရုရှလင်မင်းကြီး၊ ဟေဗြုန်
မင်းကြီး၊ ယာရမုတ်မင်းကြီး၊ လာခိရှမင်းကြီး၊
ဧဂလုန်မင်းကြီး ငါးပါးတို့ကို လိုဏ်ခေါင်းထဲက
၂၄ ဆောင်ခဲ့၍၊- ယောရှုထံသို့ ရောက်ပြီးမှ၊ ယော
ရှုသည် မိမိနှင့်အတူ စစ်ချီသော ဗိုလ်မင်းတို့နှင့်
ဣသရေလလူအပေါင်းတို့ကိုခေါ်လျှင်၊ ချည်း
ထကြ၊ ဤမင်းကြီးတို့၏လည်ကုပ်အပေါ်၌ခြေ
ကို တင်ကြဟု၊ ဗိုလ်မင်းတို့အားဆိုသည်အ
တိုင်း၊ သူတို့သည်ချည်းထ၍၊ ထိုမင်းကြီးတို့၏
၂၅ လည်ကုပ်အပေါ်၌ ခြေကိုတင်ကြ၏။- ယောရှု
ကလည်း၊ သင်တို့တိုက်ရသောရန်သူအပေါင်း
တို့ကို၊ ထာဝရဘုရားသည် ဤကဲ့သို့ပြုတော်မူ
မည်ဖြစ်၍၊ မကြောက်ကြနှင့်၊ စိတ်မပျက်ကြ
နှင့်၊ အားယူ၍၊ ရဲရင့်ခြင်းရှိကြလော့ဟုဆိုပြီး
၂၆ မှ၊-ထိုမင်းကြီးတို့ကို ထားနှင့်ကွပ်မျက်၍၊ သစ်
ပင်ငါးပင်တို့၌ဆွဲထားလေ၏၊ ညဦးတိုင်အောင်
၂၇ သစ်ပင်၌ဆွဲထားပြီးမှ၊-နေဝင်မှိန်ရောက်သော
အခါ၊ ယောရှုစီရင်သည်အတိုင်း၊ သစ်ပင်မှချ
ပြီးလျှင်၊ သူတို့ပုန်းလျှက်နေရာလိုဏ်ခေါင်း၌ပြစ်
ထား၍၊ လိုဏ်ခေါင်းဝ ပေါ်မှာ ကြီးစွာသော
ကျောက်တို့ကိုစုပုံကြ၏၊ ထိုကျောက်ပုံသည်ယ
နေ့တိုင်အောင်ရှိ၏။
၂၈ ထိုနေ့၌ယောရှုသည်မက္ကေဒါမြို့ကိုတိုက်ယူ၍၊
မြို့နှင့်မင်းကြီးကိုထားနှင့်လုပ်ကြံပြီးလျှင်၊ မင်း
ကြီးနှင့်တကွမြို့သားအပေါင်းတို့ကို၊ တယောက်
မျှ မကျန်ကြွင်းရဘဲ၊ ရှင်းရှင်းဖျက်ဆီးလေ၏၊
ယေရိခေါမင်းကြီးကိုပြုသကဲ့သို့၊ မက္ကေဒါမင်း
၂၉ ကြီးကိုပြုသတည်း။-ထိုနောက်၊ ယောရှုသည်ဣ
သရေလလူအပေါင်းတို့နှင့်တကွ၊ မက္ကေဒါမြို့မှလိ
၃၀ ဗနမြို့သို့ ရှိသွား၍ တိုက်သဖြင့်၊-ထာဝရဘုရား
သည် ထိုမြို့နှင့်မင်းကြီးကို ဣသရေလလူတို့
လက်၌အပ်တော်မူ၍၊ မြို့နှင့်မြို့သားအပေါင်းတို့
ကို၊ တယောက်မျှ မကျန်ကြွင်းရဘဲ၊ ထားနှင့်
လုပ်ကြံ၍၊ ယေရိခေါမင်းကြီးကိုပြုသကဲ့သို့၊ ထို
၃၁ မင်းကြီးကိုပြုကြ၏။-ယောရှုသည်ဣသရေလလူ
အပေါင်းတို့နှင့်တကွ၊ လိဗနမြို့မှလာခိရှမြို့သို့ရှိ
၃၂ သွား၍၊ တပ်ချလျှက်တိုက်ကြ၏။-ထာဝရဘုရား
သည်ထိုမြို့ကို ဣသရေလလူတို့လက်၌အပ်တော်
မူသဖြင့်၊ ဒုတိယနေ့၌ရ၍၊ လိဗနမြို့ကိုပြုသကဲ့
သို့ထိုမြို့နှင့်မြို့သူမြို့သားအပေါင်းတို့ကိုထားနှင့်
၃၃ လုပ်ကြံကြ၏။- ထိုအခါဂေဇာမင်းကြီးဟောရံ
သည်၊ လာခိရှမြို့ကို ကူညီမည်ဟု လာသော
ကြောင့်၊ ယောရှုသည် ထိုမင်းကြီးနှင့်သူ၏လူအ
ပေါင်းတို့ကို တယောက်မျှ မကျန်ကြွင်းရဘဲ၊
၃၄ ရှင်းရှင်းလုပ်ကြံလေ၏။- တဖန်ယောရှုသည်၊
ဣသရေလလူအပေါင်းတို့နှင့်တကွ၊ လာခိရှမြို့မှ
ဧဂလုန်မြို့သို့ ရှိသွား၍၊ တပ်ချလျှက် တိုက်ကြ
၃၅ ၏။- ထိုနေ့ချင်းတွင် ရ၍၊ လာခိရှမြို့ကိုပြုသကဲ့
သို့၊ ထိုမြို့နှင့်မြို့သူမြို့သားအပေါင်းတို့ကို ထား
နှင့်လုပ်ကြံ၍၊ တနေ့ချင်းတွင်ရှင်းရှင်းဖျက်ဆီး
၃၆ ကြ၏။- တဖန် ယောရှုသည် ဣသရေလလူအ
ပေါင်းတို့နှင့်တကွ၊ ဧဂလုန်မြို့မှဟေဗြုန်မြို့သို့ရှိ
၃၇ သွား၍ တိုက်ကြ၏။- ရသောအခါ၊ ဧဂလုန်မြို့
ကိုပြုသကဲ့သို့၊ ထိုမြို့နှင့်မင်းကြီးကိုငှင်၊ ထိုမြို့နှင့်
ဆိုင်သောမြို့ရှိသမျှတို့ကိုငှင်၊ မြို့သူမြို့သားအ
ပေါင်းတို့ကိုငှင်၊ တယောက်မျှမကျန်ကြွင်းရဘဲ၊
ထားနှင့်လုပ်ကြံ၍၊ မြို့နှင့်မြို့သားအပေါင်းတို့
၃၈ ကိုရှင်းရှင်းဖျက်ဆီးကြ၏။- တဖန်ယောရှုသည်
ဣသရေလလူအပေါင်းတို့နှင့်တကွ၊ ဒေဗိရမြို့
၃၉ သို့ပြန်လာ၍ တိုက်ကြ၏။- ထိုမြို့နှင့်မင်းကြီးကို
ငှင်၊ ထိုမြို့နှင့်ဆိုင်သောမြို့ရှိသမျှတို့ကိုငှင်ရ၍၊
ထားနှင့်လုပ်ကြံသဖြင့်၊ မြို့သားအပေါင်းတို့ကို၊
တယောက်မျှမကျန်ကြွင်းရဘဲ၊ ရှင်းရှင်းဖျက်
ဆီးလေ၏၊ ဟေဗြုန်မြို့၊ လိဗနမြို့နှင့်မင်းကြီးကို
ပြုသကဲ့သို့၊ ဒေဗိရမြို့နှင့်မင်းကြီးကိုပြုသတည်း။-
၄၀ ထိုသို့ဣသရေလအမျိုး၏ဘုရားသခင်ထာဝရ
ဘုရားမှာထားတော်မူသည်အတိုင်း၊ ယောရှု
သည်တောင်ပေါ်အရပ်၊ တောင်မျက်နှာအရပ်၊
မြို့င့်ထဲအရပ်၊ စမ်းရေတွင်းအရပ်ရှိသမျှတို့နှင့်
တကွ၊ မင်းကြီးအပေါင်းတို့ကိုလုပ်ကြံ၍၊ အ
သက်ရှင်သောသူတယောက်မျှမကျန်ကြွင်းရဘဲ
၄၁ ရှင်းရှင်းဖျက်ဆီးလေ၏။- ကာဒေရှဗာနာမြို့မှစ
၍၊ ဂါဇမြို့တိုင်အောင်ငှင်၊ ဂေါရှင်ပြည်တရှောက်
လုံးနှင့်တကွ၊ ဂိဗောင်မြို့တိုင်အောင်ငှင်လုပ်ကြံ
၄၂ ၍၊- ဣသရေလအမျိုး၏ဘုရားသခင်ထာဝရ
ဘုရားသည်၊ ဣသရေလအမျိုးထက်မှာစစ်ထိုက်
တော်မူသောကြောင့်၊ ထိုပြည်များနှင့်တကွ၊ မင်း
ကြီးအပေါင်းတို့ကို တခါတည်းဆောင်ထော၏။-
၄၃ ထိုနောက်၊ ယောရှုသည်၊ ဣသရေလလူအပေါင်း
တို့နှင့်တကွ၊ ဂိလဂါလတပ်သို့ပြန်သွား၏။

## ၁၁

၁ ထိုသိတင်းကို ဟာဇော်မင်းကြီး ယာဘိန်
သည် ကြားသောအခါ၊ မာဒုန် မင်းကြီး ယော
ဗပ်၊ ရှိမြုန်မင်းကြီး၊ အာခရှပ် မင်းကြီး တို့ထံသို့
၂ ၎င်း၊-တောင်မြောက်ထက်အရပ်၊ ဂနေသရက်
မြို့တောင် ထက်လွင်ပြင်အရပ်၊ ချိုင့်ထဲအရပ်၊
အနောက်မျက်နှာဒေါရပြည်နယ်၌ရှိသောမင်း
၃ ကြီးများထံသို့၎င်း၊- အရှေ့အနောက်၌နေသော
ခါနနိလူ၊ တောင်ပေါ်မှာနေသောအာမောရိလူ၊
ဟိတ္တိလူ၊ ဖေရဇိလူ၊ ယေဗုသိလူ၊ မိဇပါပြည်၊
ဟေရမုန်တောင်ခြေရင်း၌ နေသောဟိဝိလူတို့ရှိ
၄ ရာသို့၎င်းစေလွှတ်၍၊- ထိုမင်းကြီးများတို့သည်၊
အရေအတွက်အားဖြင့်သမုဒ္ဒရာသဲလုံးနှင့်အမျှ
အလွန်များစွာသော မိုလ်ပါအပေါင်း၊ မြင်းများ၊
ရထားများအပေါင်းတို့နှင့်တကွ ထွက်လာကြ
၅ ၏။-ထိုမင်းကြီးအပေါင်းတို့သည် စည်းဝေးလျက်၊
ဣသရေလ အမျိုးကို တိုက်ခြင်းငှါ ရှိထ၍၊ မေ
ရုံရိုင်နားမှာတပ်တည်းတပ်ချလျက်နေကြ၏။-
၆ ထာဝရဘုရားကလည်း၊သူတို့ကိုမကြောက်နှင့်၊
ငါသည်နက်ဖန်နေ့၊ ယခုအချိန်၌ ဣသရေလအ
မျိုးရှေ့မှာ၊ထိုသူအပေါင်းတို့ကိုအသေအပ်မည်၊
မြင်းတို့၏ခြေကြောကိုဖြတ်ရမည်၊ရထားတို့ကို
၇ မီးရှို့ရမည်ဟု၊ယောရှုအားမိန့်တော်မူ၏။-ယော
ရှုသည် ထည်း၊ မိမိ စစ်သူရဲအပေါင်းတို့နှင့်တ
ကွ၊ မေရုံရိုင်နားသို့အမှတ်တမဲ့ ခဲပြဲ၍ ကိုယ်
၈ ထေ၏။-ထာဝရဘုရားသည်၊ သူတို့ကိုဣသရေ
လအမျိုးသားတို့လက်၌ အပ်တော်မူသဖြင့်၊သူ
တို့ကိုလုပ်ကြံ၍၊ဇိဒုန်ရဗ္ဗာမြို့၊မိသရေဖောသမိမ်
မြို့၊ အရှေ့မျက်နှာမိဇပါချိုင့်တိုင်အောင် ပြိုထ
၍၊တယောက်ကိုမျှ မကျန်ကြွင်းစေခြင်းငှါလုပ်
၉ ကြံကြ၏၊-ထာဝရဘုရားမှာထားတော်မူသည်
အတိုင်း၊ ယောရှုသည် မြင်းတို့၏ ခြေကြောကို
၁၀ ဖြတ်၍၊ရထားတို့ကိုမီးရှို့လေ၏။-ထိုအခါယော
ရှုသည်ပြန်၍၊ ဟာဇော်မြို့ကို တိုက်ယူသဖြင့်၊
မင်းကြီးကို ထားနှင့်ကွပ်မျက်လေ၏။ ရှေးကာ
လ၌ ဟာဇော်မြို့သည် ထိုပြည်များတို့ကို အုပ်
၁၁ စိုးရသတည်း။-ထိုမြို့သူမြို့သားအပေါင်းတို့ကို
ထားနှင့်ကွပ်မျက် သဖြင့်၊ တယောက် ကိုမျှ အ
သက်ရှင်စေခြင်းငှါမထား၊ ရှင်းရှင်းဖျက်ဆီး၍၊
၁၂ မြို့ကိုလည်းမီးရှို့လေ၏၊- ထာဝရဘုရား၏ကျွန်
မောရှေမှာ ထားသည် အတိုင်း၊ထိုမင်းကြီးများ
အမိရသောမြို့ရှိသမျှ တို့နှင့် မင်းကြီးအပေါင်း
တို့ကို၊ ယောရှုတိုက်ယူ၍၊ ထားနှင့် လုပ်ကြံ အ
၁၃ ဖြင့်၊ရှင်းရှင်းဖျက်ဆီးလေ၏။- သို့ရာတွင်၊ ဟာ
ဇော်မြို့မှတပါး၊ တောင်ပေါ်၌ တည်သောမြို့တို့
ကိုဣသရေလလူတို့သည်မီးမရှို့ကြ၊ ဟာဇော်
၁၄ မြို့တမြို့ကိုသာယောရှုမီးရှို့သတည်း။-ထိုမြို့များ
၌လက်ရဥစ္စာနှင့် တိရစ္ဆာန်ရှိသမျှတို့ကို၊ ဣသ
ရေလလူတို့သည်ကိုယ်အဖို့သိမ်းယူကြ၏၊လူတို့
ကို မဖျက်ဆီးမှီ တိုင်အောင်၊ ရှိသမျှတို့ကို ထား
နှင့်လုပ်ကြံကြ၏၊ တယောက်ကိုမျှအရှင်မကျန်
၁၅ ကြွင်းစေကြ၊-ထာဝရဘုရားသည် မိမိကျွန်မော
ရှေကို မှာထား တော်မူ သည် အတိုင်း၊မောရှေ
သည် ယောရှုကို ဆင့်ဆို၏၊ ယောရှုလည်း ထို
သို့ပြုလေ၏၊ ထာဝရဘုရားသည် မောရှေကိုမှာ
ထားတော်မူသမျှသော အမှုတခု တစုကိုချွတ်၍
မထား။

၁၆ ထိုသို့မိရထမ်းတွင် ရှိသော ထာထက်တောင်
၁၇ မှစ၍၊ ဟေရမုန်တောင်ခြေရင်း၊ လေဗနုန်ချိုင့်
၌ရှိသော ဗာလဂဒ်မြို့တိုင်အောင်၊ တောင်ပေါ်
အရပ်၊တောင်မျက်နှာအရပ်၊ ဂေါရှင်ပြည်၊ချိုင့်
များ၊လွင်ပြင်များ၊ ဣသရေလတောင်၊ ဣသရေ
လ ချိုင့်နှင့်တကွ၊ ထိုပြည်အလုံးစုံကို ယောရှု
သည်သိမ်းယူ၍၊ မင်းကြီးအပေါင်းတို့ကိုဆောင်
၁၈ သဖြင့်၊လုပ်ကြံကွပ်မျက်လေ၏။-ထိုမင်းကြီးအ
ပေါင်းတို့ကို ကာလကြာမြင့်စွာ စစ်တိုက်ရ၏။-
၁၉ ဟိဝိလူ၊ ဂိဗောင်မြို့သားမှတပါး၊ ဣသရေလအ
မျိုးသားတို့နှင့်မိဿဟာယဖွဲ့သောမြို့တမြို့မျှမ
ရှိ၊ အခြားသော မြို့ရှိသမျှတို့ကို တိုက်၍၊ အနိုင်
၂၀ သိမ်းယူရကြ၏။- အကြောင်းမူကား၊ ထာဝရ
ဘုရားသည်မောရှေကိုမှာထားတော်မူသည်အ
တိုင်း၊ ထိုလူမျိုးတို့ကိုကျေးဇူးမပြု၊ အကုန်အစင်
သုတ်သင်ပယ်ရှင်းစေမည် အကြောင်း၊ သူတို့
သည်ဣသရေလအမျိုးသားတို့ကိုဆီး၍တိုက်စိမ့်
သည် တိုင်အောင်၊ သူတို့စိတ်နှလုံးခိုင်မာစေ
ခြင်းငှါ၊ထာဝရဘုရားအလိုရှိတော်မူသတည်း။-
၂၁ ထိုကာလအခါယောရှုသည်ရှိသွား၍၊ အာနက
လူတို့ကိုတောင်ပေါ်အရပ်၊ ဟေဗြုန်မြို့၊ ဒေဗိရ
မြို့၊ အာနပ်မြို့၊ ယုဒတောင်၊ ဣသရေလ တောင်ရှိ
သမျှတို့မှ ပယ်ရှား၍၊ သူတို့ မြို့များနှင့် တကွ၊
၂၂ ရှင်းရှင်းဖျက်ဆီးလေ၏။- ဂါဇမြို့၊ ဂါသမြို့၊ အာ
ရုဒ်မြို့မှတပါး၊ ဣသရေလ တိုင်းနိုင်ငံတွင်ကျန်
၂၃ ကြွင်းသောအာနကလူ တယောက်မျှမရှိ။-ထာ
ဝရဘုရား သည် မောရှေကို မိန့်တော်မူသမျှအ-

ထိုင်း၊ ယောရှုသည် ထိုပြည် တရှောက် လုံး ကို သိမ်းယူ၍၊ ဣသရေလအမျိုးအနွယ်အသီးအသီးတို့အား အမွေ ပေး အဖို့ဖို့ ပြည်သုံး စပ်ပြီးလေ၏။

၁၂

၁ ယော်ဒန်မြစ်အရှေ့၊ နေထွက်ရာအထက်၌၊ အာနုန်မြစ်မှစ၍၊ ဟေရမုန် တောင် တိုင်အောင်၊ အရှေ့ လွင် ပြင် ရှိ သ မျှ ပါ လျက်၊ ဣသရေလ အမျိုးသားတို့သည်လုပ်ကြံ၍ သိမ်းယူသောပြည်
၂ ကိုအမိုးရသော မင်းကြီးများဟူမူကား၊- အာနုန်မြို့ အနားမှာ အာရော်မြို့၊ မြစ်တဝက်၊ ဂိလဒ် ပြည် တဝက်မှစ၍၊ အမ္မုန် ပြည်နှင့်အပိုင်းအခြား၊ ယဗ္ဗုတ်မြစ်တိုင် အောင်၎င်း၊- အရှေ့ဘက်နှာ၌ လွင်ပြင်မှစ၍၊ ဂနေသရက်ထိုင်နှင့်လွှင်ပြင် ဆိုင်တည်း ဟူသော၊ သောပုံ ထိုင် အရှေ့ ထက်၊ ဗက်ယေရှိမုတ်မြို့သို့ သွားရာလမ်း၊ အာရှုတ်ပိသဂါမြို့ အနား၊ တောင် မျက် နှာမှ လာ ရာ လမ်း တိုင် အောင် ၎င် အမိုး ရ ၍၊ ဟေရှဘုန် မြို့ ၌ နေ
၃ သောအာမောရိရှင်ဘုရင်ရှိဟုန်တပါး၊-ဩဂ
၅ ရှန်တောင်နှင့်သာလကာပြည်ကို၎င်း၊ ဂေရှုရိလူ၊ မာခါသိလူနေသောပြည်စွန်းတိုင်အောင်၊ ဗာရှန် ပြည် တရှောက် လုံး ကို ၎င်း၊ ဟေရှဘုန် ရှင်ဘုရင်ရှိဟုန်ပိုင်သောနိုင်ငံစွန်းတိုင်အောင်၊ ဂိလဒ် ပြည်တဝက်ကို၎င် အမိုးရ၍၊ အာရှ တရုတ်မြို့၊ ဧဒြေမြို့၌နေသော၊ အလွန်ကြီးမားသောလူမျိုးထဲ က ကျန် ကြွင်း သော သူ၊ ဗာရှန် ရှင်ဘုရင်ဩဂ
၆ တပါး၊- ထိုရှင်ဘုရင်နှစ်ပါးကို၊ ထာဝရဘုရား ၏ ကျွန် မောရှေနှင့် ဣသရေလ အမျိုးသားတို့ သည် လုပ်ကြံ၍၊ ထာဝရ ဘုရား၏ ကျွန် မောရှေ သည်သူတို့ပြည်ကိုရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေအမျိုးတဝက်တို့အားအပိုင်ပေးလေ၏။
၇ ယော်ဒန် မြစ် အ နောက် ထက် မှာ၊ လေဗနုန် ချိုင့်၌ရှိသောဗာလဂဒ်မြို့မှစ၍၊ မိရထမ်းတွင်ရှိ
၈ သောဟာလက်တောင်တိုင်အောင်၊ တောင်ပေါ် အရပ်၊ ချိုင့်ထဲအရပ်၊ လွင်ပြင်အရပ်၊ စမ်းရေ တွင်းအရပ်၊တောအရပ်၊တောင်မျက်နှာအရပ်၊ ဟိတ္တိလူ၊ အာမောရိလူ၊ ခါနနိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေဗုသိလူနေရာ၊ ယောရှုနှင့် ဣသရေလ အမျိုးသားလုပ်ကြံ၍၊ ယောရှုသည် ဣသရေလ အမျိုးအနွယ်အသီးအသီးတို့အား၊ အပိုင်ပေး သော ပြည်ကို အမိုး ရ သော မင်းကြီးများဟူမူ
၉ ကား၊-ယေရိခေါမင်းကြီးတပါး၊ဗေသလမြို့အ

၁၀ နားမှာ၊အာဣမင်းကြီးတပါး၊-ယေရုရှလင်မင်း
၁၁ ကြီးတပါး၊ဟေဗြုန်မင်းကြီးတပါး၊- ယာရမုတ်
၁၂ မင်းကြီး တပါး၊ လာခိရှ မင်းကြီး တပါး၊- ဧဂ
၁၃ လုန်မင်းကြီးတပါး၊ ဂေဇာ မင်းကြီးတပါး၊-ဒေ
၁၄ ဗိရမင်းကြီးတပါး၊ဂေဒါမင်းကြီးတပါး၊-ဟော
၁၅ မာမင်းကြီးတပါး၊အာရဒ်မင်းကြီးတပါး၊-လိဗ်
၁၆ န မင်းကြီးတပါး၊ အဒုလံမင်း ကြီးတပါး၊- မက္က
၁၇ ဒါမင်းကြီးတပါး၊ဗေသလမင်းကြီးတပါး၊-တာ
၁၈ ပွာမင်းကြီးတပါး၊ဟေဖာမင်းကြီး တပါး၊-အာ ဖက်မင်း ကြီးတပါး၊ လာရှရုန်မင်းကြီးတပါး၊-
၁၉ မာဒုန် မင်း ကြီး တပါး၊ ဟာဇော် မင်း ကြီး တ
၂၀ ပါး၊-ရှိမရုန်မင်းကြီးတပါး၊ အာခရှပ် မင်းကြီး
၂၁ တပါး၊- တာနက်မင်းကြီးတပါး၊ မေဂိဒ္ဒေါမင်း
၂၂ ကြီးတပါး၊-ကေဒေရှမင်းကြီးတပါး၊ကရမေလ တောင် ပေါ်မှာ ယောကနမ် မင်း ကြီး တ ပါး၊-
၂၃ ဒေါရပြည်နယ်မှာ ဒေါရမင်းကြီးတပါး၊ ဂိလဂါ
၂၄ လပြည်မှာ ဂေါဣမ် မင်း ကြီး တပါး၊- တိရဇ မင်းကြီးတပါး၊ မင်းကြီးပေါင်းသုံးဆယ်တပါး တည်း။

၁၃

၁ ယောရှုသည် အို၍ အသက် ကြီးရင့်သောအ ခါ၊ ထာဝရ ဘုရားက၊ သင် သည် အို၍ အသက် ကြီးရင့် ပြီ၊ သိမ်း ယူ ရမည် မြေ ထည်း အများ
၂ ကျန်သေး၏၊- ကျန်သောမြေဟူမူကား၊ ဖိလိတ္တိ
၃ ပြည်မှစ၍၊ဂေရှုရိပြည်တရှောက်လုံး၊-အဲဂုတ္တု ပြည်အရှေ့၊ရှိဟောရမြစ်မှစ၍၊မြောက်မျက်နှာ၌ ဧကြုန်မြို့နယ် တိုင် အောင်၊ ခါနနိ လူနေသော ပြည်၊ ဖိလိတ္တိမင်း ငါးပါး တည်း ဟူသော၊ ဂါဇသိ လူ၊ အာ ဇော တိ လူ၊ ဧ ရှ က လော နိ လူ၊ ဂိတ္တိလူ၊ ဧကြောနိလူနှင့်တကွ၊ အာဝိလူနေသော
၄ ပြည်၊- တောင် မျက် နှာ မှစ၍၊ အာမောရိပြည် အာ ဖက်မြို့ တိုင် အောင်၊ ခါနနိပြည် တရှောက် လုံးနှင့်ဇိဒုန်ပြည် အနားမှာရှိသောမာရာပြည်၊-
၅ နေ ထွက် ရာ ဘက်၊ ဟေရမုန် တောင် ခြေရင်း၌ ဗာလဂဒ် မြို့ မှ စ၍၊ ဟာ မတ် ပြည် အဝင် တိုင် အောင်ဂေဗလပြည်၊ လေဗနုန်ပြည် တရှောက်
၆ လုံးကျန်သတည်း၊-လေဗနုန်တောင်မှစ၍၊မိသ ရဖောသမိမ် မြို့ တိုင် အောင်၊ တောင် ပေါ်၌ နေ သောသူနှင့်ဇိဒေါနိ လူအပေါင်းတို့ကို၊ ဣသရေ လ အမျိုးသား ရှေ့မှ ငါနှင်ထုတ်မည်။ သို့ဖြစ်၍၊ ငါ မှာထား သည် အတိုင်း စာ ရေးတံဖြင့် လှုတ်၊ ထိုမြေ ကို ဣ သ ရေလ လူထို အား အမွေ ဝေဝေန်

၇ သော့။- ထိုမှာ ဤပြည်ကို ဣသရေလ အမျိုး
ကိုးမျိုးနှင့် မနာရှေ အမျိုး တဝက် တို့ အား အ
၈ မွေဝေမန်လော့။- ရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာ
ရှေအမျိုးတဝက် တို့သည် ယော်ဒန်မြစ် အရှေ့
ဘက်၊ မောရှေပေးသည်အတိုင်း၊ မိမိတို့အမွေ
မြေကို ခံကြပြီ ထုမိန့်တော်မူ၏။
၉ ထာဝရ ဘုရား၏ ကျွန် မောရှေ ပေးသော မြေ
ဟူမူကား၊ အာနုန်မြစ်နား၌ရှိသောအာရော်မြို့၊
မြစ်အလယ်၌ရှိသမျှသောမြို့တို့နှင့်တကွ၊ ဒိဘုန်မြို့
တိုင် အောင် မေဒဘ လွင်ပြင် တရှောက် လုံး၊-
၁၀ အမ္မုန်ပြည်စွန်းတိုင်အောင်၊ ဟေရှဘုန်မြို့၌မင်း
ပြုသောအာမောရိရှင်ဘုရင်ရှိဟုန်အမိုးရသော
၁၁ မြို့ရှိသမျှ၊- ဂိလဒ်ပြည်၊ ဂေရှုရိလူ၊ မာခါသိလူ
နေသောပြည်၊ ဟေရမုန်တောင်ရှိသမျှ၊ သာလ
ကာပြည်တိုင်အောင် ဗာရှန်ပြည် တရှောက်လုံး၊-
၁၂ အလွန် ကြီးမား သော လူမျိုး ထဲက ကျန် ကြွင်း
သောသူ၊ အာရှတရုတ်မြို့၊ ဧဒြေမြို့၌မင်းပြုသော
ဗာရှန်ရှင်ဘုရင်ဩဃ၏ နိုင်ငံ တရှောက်လုံးပါ
သတည်း။ ထိုမင်းတို့ကို မောရှေသည်လုပ်ကြံ၍
၁၃ မထိခိုက်ကြ၏။- သို့ရာတွင်၊ ဣသရေလ လူတို့
သည် ဂေရှုရိလူ၊ မာခါသိလူတို့ကိုမနှင်ထုတ်ကြ။
ထိုလူမျိုး တို့သည်၊ ယနေ့ တိုင် အောင် ဣသရေ
လအမျိုးသားတို့နှင့်အတူနေကြ၏။
၁၄ လေဝိအမျိုးသား အမွေကို မပေး။ ဣသရေလ
အမျိုး၏ဘုရားသခင်ထာဝရဘုရားအား မီးဖြင့်
ပူဇော်သော ယဇ်တို့သည်၊ အမိန့်တော်ရှိသည်
အတိုင်း၊ သူတို့အမွေဖြစ်သတည်း။
၁၅ မောရှေသည်၊ ရုဗင်အမျိုးသား အဆွေအမျိုး
အသီးအသီးတို့အား၊ အမွေပေးသောပြည်မှား
၁၆ ဟူမူကား၊- အာနုန်မြစ် နား ၌ ရှိ သော အာရော်
မြို့၊ မြစ်အလယ်၌ရှိသမျှသောမြို့တို့နှင့်တကွ၊ မေဒ
၁၇ ဘလွင်ပြင်တရှောက်လုံး၊- ဟေရှဘုန်မြို့နှင့်တ
ကွ လွင်ပြင်၌ ရှိသမျှသောမြို့၊ ဒိဘုန်မြို့၊ ဗာမုတ်
၁၈ ဗာလမြို့၊ ဗက်ဗာလမောင်မြို့၊- ယဟာဇမြို့၊ ကေ
၁၉ ဒမုတ်မြို့၊ မေဖတ်မြို့၊- ကိရယသိမ်မြို့၊ သိဗမာမြို့၊
ချိုင့်တွင်တောင်ပေါ်မှာရှိသော ဇာရက်ရှာဟာ
၂၀ မြို့၊- ဗက်ပေဂုရမြို့၊ အာရုတ်ပိသဂါမြို့၊ ဗက်ယေ
၂၁ ရှိမုတ်မြို့၊- လွင်ပြင်၌ရှိသမျှသောမြို့တို့နှင့်တကွ၊
ဟေရှဘုန်မြို့၌ မင်းပြုရသော အာမောရိ ရှင်ဘု
ရင်ရှိဟုန်၏နိုင်ငံတရှောက်လုံးကိုပေးသတည်း။
ထို ရှင်ဘုရင် ကို၎င်း၊ ထို ရှင်ဘုရင် မှူး မြေ[illegible]
၍၊ ထိုပြည်၌နေသောမိဒျန်မင်းကြီးငါးပါး၊ ဧဝိ၊
ရေကင်၊ ဇုရ၊ ဟုရ၊ ရေဗ တို့ကို၎င်း၊ မောရှေ
၂၂ သည်လုပ်ကြံလေ၏။- ပရောဖက်လုပ်သောဗော
ရသား ဗာလမ်ကိုလည်း၊ အသေခံရသောသူတို့
နှင့် ရော၍၊ ဣသရေလလူတို့သည်ထားနှင့်ကွပ်
၂၃ မျက်ကြ၏။- ရုဗင် အမျိုးသား နေရာ အပိုင်းအ
ခြားကား၊ ယော်ဒန်မြစ်နှင့် မြစ်ကမ်းပါးတည်း။
ဤရွေကား၊ ရုဗင်အမျိုး သား အဆွေ အမျိုး အ
လိုက်၊ အမွေခံရသောမြို့ရွာများပေတည်း။
၂၄ မောရှေသည် ဂဒ်အမျိုးသား အဆွေအမျိုးအ
သီးအသီးတို့အား၊ အမွေပေးသောပြည်များဟူမူ
၂၅ ကား၊- ယာဇာမြို့မှစ၍၊ ဂိလဒ်မြို့ရှိသမျှတို့နှင့်တ
ကွ၊ ရဗ္ဗာမြို့ရှေ့၌ရှိသော အာရော်မြို့တိုင်အောင်၊
၂၆ အမ္မုန်ပြည် တဝက်၊- ဟေရှဘုန် မြို့မှစ၍၊ ရာ
မတ်မိဇပါမြို့၊ ဗေတောနိမ်မြို့ တိုင်အောင်၎င်း၊ မ
ဟာနိမ်မြို့မှစ၍၊ ဒေဗိရမြို့နယ်တိုင်အောင်၎င်းပါ
၂၇ သောပြည်၊- ချိုင့်၌လည်း၊ ဗေသာရံမြို့၊ ဗက်နိမ်
ရမြို့၊ သုကုတ်မြို့၊ ဇာဖုန်မြို့အစရှိသော၊ ယော်ဒန်
မြစ် အရှေ့ဘက်၊ ယော်ဒန် မြစ် အပိုင်း အခြား၊
ဂနေသရက်အိုင်နားတိုင်အောင်၊ ဟေရှဘုန်ရှင်
ဘုရင် ရှိဟုန် ပိုင်သော နိုင်ငံ ကျန် ကြွင်း သမျှကို
၂၈ ပေး သတည်း။- ဤရွေကား၊ ဂဒ်အမျိုးသား အ
ဆွေ အမျိုး အလိုက်၊ အမွေ ခံရသော မြို့ရွာ များ
ပေတည်း။
၂၉ မောရှေသည် မနာရှေ အမျိုး တဝက်အား အ
မွေပေး၍၊ မနာရှေအမျိုးသား တဝက်သည်၊ အ
ဆွေအမျိုးအလိုက်၊ အမွေခံရသောပြည်များဟူ
၃၀ မူကား၊- မဟာနိမ်မြို့မှစ၍၊ ဗာရှန်ပြည်တည်း
ဟူ သော၊ ဗာ ရှန် ရှင်ဘု ရင် ဩဃ ၏ နိုင်ငံတ
ရှောက်လုံး၊ ဗာရှန်ပြည်၌ပါသော၊ ယာဣရမြို့
၃၁ ခြောက်ဆယ် ကို အမွေခံ ရ သတည်း။- ဂိလဒ်
ပြည်တဝက်၊ ဗာရှန်ပြည်၌ဩဃ၏နိုင်ငံအဝင်၊
အာရှတရုတ်မြို့နှင့် ဧဒြေမြို့တို့ကို မနာရှေသား၊ မာ
ခိရ၏သားမြေး တဝက်၊ အဆွေအမျိုး အလိုက်
၃၂ ပိုင်ရကြ၏။- ဤရွေကား၊ မောရှေသည် ယော်ဒန်
မြစ်အရှေ့၊ ယေရိခေါမြို့တဘက်၊ မောအပ်လွင်ပြင်
၃၃ ၌ အမွေဝေမန်သောပြည်များပေတည်း။- လေဝိ
အမျိုးသား အမွေကို မပေး၊ ဣသရေလ အမျိုး၏
ဘုရားသခင်ထာဝရဘုရားသည်၊ အမိန့်တော်ရှိ
သည်အတိုင်း၊ သူတို့အမွေဖြစ်တော်မူသတည်း။

၁၄

၁ ခါနာန်ပြည်၌လည်း၊ ယဇ်ပုရောဟိတ် ဧလာ
ဇာ၊ နုန်၏သားယောရှု၊ အစရှိသော၊ ဣသရေလ

အငြိုးအတွက်တို့၌ မင်းဖြစ်သော သူတို့သည်အ
မွေဝေဖန်၍၊ ဣသရေလအမျိုးသားတို့သည်အ
၂ မွေခံရကြ၏၊-ထာဝရဘုရားသည်မောရှေအား
ဖြင့်မှာ ထားတော် မူသည် အတိုင်း၊ ဣသရေလ
အမျိုးကိုးမျိုးနှင့်တဝက်တို့သည်စာရေးတံပြု၍
အမွေခံရကြ၏၊-မောရှေသည် ဣသရေလအမျိုး
နှစ်မျိုးနှင့်တဝက်တို့အား၊ ယော်ဒန်မြစ်အရှေ့
အကျိုးအမွေပေးနှင့်ပြီ၊လေဝိသားတို့အားအ
၃ ခြားသောအမျိုးနှင့်ရော၍အမွေမပေး၊- ယော
သပ်အမျိုးသားတို့သည် မနာရှေအမျိုး၊ ဧဖရိမ်
အမျိုး၊ နှစ်မျိုးဖြစ်၍၊ လေဝိသားတို့နေစရာမြို့၊
သူတို့တိရိစ္ဆာန်နှင့် ဥစ္စာကို ထားစရာ မြို့နယ်မှ
၅ တပါး၊ အခြား သော မြေကို မပေး၊- မောရှေ
အား ထာဝရ ဘုရား မှာ ထား တော် မူသည် အ
တိုင်း၊ ဣသရေလ အမျိုးသားတို့သည်ပြု၍ မြေ
ကိုဝေဖန်ကြ၏၊

၆ ထိုအခါယုဒအမျိုးသား တို့သည်၊ ဂိလဂါလ
မြို့၌ ယောရှုထံသို့လာ၍၊ ကေနက် အမျိုး ယေ
ဖုန္နာ၏ သားကာလက်က၊ ထာဝရဘုရားသည်
ကာဒေရှဗာနာအရပ်၌ ကိုယ်တော်နှင့်အကျွန်ုပ်
ကိုရည်စောင်၍၊ဘုရားသခင်၏ လူမောရှေအား
မိန့်တော်မူသောစကားကိုကိုယ်တော်သိပါ၏၊-
၇ ဤပြည်ကိုစူးစမ်းစေခြင်းငှါ၊ ဘုရားသခင်၏ကျွန်
မောရှေသည် အကျွန်ုပ်ကို ကာဒေရှဗာနာအရပ်
မှစေလွှတ် သော အခါ၊ အကျွန်ုပ် သည် အသက်
လေးဆယ်ရှိပါ၏၊ အကျွန်ုပ်သည် ကိုယ်စိတ်ထင်
၈ သည်အတိုင်းပြန်ကြားလျှောက်ထားပါ၏၊-အ
ကျွန်ုပ်နှင့်အတူ သွားသော ညီအစ်ကိုတို့သည်၊
လူများ၏စိတ်ပျက်စရာကိုပြုသော်လည်း၊အကျွန်ုပ်
သည် အကျွန်ုပ်၏ ဘုရား သခင် ထာဝရ ဘုရား
၉ နောက်တော်သို့လုံးလုံးလိုက်ပါ၏၊- ထိုနေ့ရက်
၌ မောရှေက၊ သင်သည်ငါ၏ ဘုရားသခင် ထာ
ဝရဘုရားနောက်တော် သို့ လုံး လုံး လိုက်သော
ကြောင့်၊အကယ်၍သင်နင်းပြီးသောမြေသည်အ
စဉ်အဆက်သင်၏အမွေ၊ သင်၏ သားမြေးတို့၏
၁၀ အမွေ ဖြစ်ရ လိမ့်မည်ဟု ကျိန်ဆိုလေ၏၊- ဣသ
ရေလအမျိုးသည်တောဥ္လှည့်လည်စဉ်အခါ၊
ထာဝရဘုရားသည်ထိုသို့မောရှေအားမိန့်တော်
မူသောနေ့မှစ၍ ယခုတိုင်အောင်၊အမိန့်တော်ရှိ
သည် အတိုင်း၊ အနှစ် လေး ဆယ် ငါး နှစ်ပတ်
လုံး အကျွန်ုပ်အသက်ကို ရှင်စေတော်မူသဖြင့်၊
ယနေ့မှာ အကျွန်ုပ်သည် အသက် ရှစ်ဆယ် ငါး
၁၁ နှစ်ရှိပါပြီ၊- ထိုရာတွင်၊ မောရှေ စေလွှတ်သော
နေ့၌ ခွန်အား ရှိသကဲ့သို့၊ ယနေ့၌ ရှိပါ၏၊ ထိုအ
ခါ ထွက် ဝင်ခြင်း အမှု၊ စစ် တိုက်ခြင်း အမှုကို
ဆောင်ရွက်ခြင်းငှါတတ်စွမ်းနိုင်သကဲ့သို့၊ ထိုမှ
၁၂ ထည်း တတ် စွမ်း နိုင်ပါ၏၊- သို့ဖြစ်၍၊ ထိုနေ့၌
ထာဝရဘုရား မိန့်တော်မူသော၊ ဤတောင်ကိုအ
ကျွန်ုပ် အား ပေးပါ၊ ဤတောင် ပေါ်မှာ အာနက
လူရှိကြောင်းကိုင်၊ကြီးမားမြင့်ခဲ့သောမြို့တို့နှင့်
ပြည့်စုံကြောင်းကိုင်၊ထိုနေ့၌ ကိုယ်တော်သဥ္
ကြားရပြီ၊ သို့ရာတွင်၊ ထာဝရဘုရားသည် အ
ကျွန်ုပ်နှင့် အတူ ရှိတော်မူလျှင်၊ အမိန့် တော်ရှိ
သည်အတိုင်း၊ ထိုသူတို့ကို နှင်ထုတ်ခြင်းငှါ အ
ကျွန်ုပ်တတ်စွမ်းနိုင်ပါသည်ဟုလျှောက်ဆို၏-
၁၃ ထိုအခါယောရှုသည် ကောင်းကြီးပေး၏၊ ဟေ
ဗြုန်ပြည်ကိုလည်း၊ယေဖုန္နာ၏ သားကာလက်
၁၄ အမွေခံစရာဘို့အပ်ပေးလေ၏၊- သို့ဖြစ်၍၊ ကေ
နက်အမျိုးယေဖုန္နာ၏ သားကာလက်သည်၊ ဣ
သရေလ အမျိုး၏ ဘုရားသခင် ထာဝရဘုရား
နောက်တော်သို့လုံးလုံးလိုက်သောကြောင့်၊ဟေ
ဗြုန်ပြည်သည် ယနေ့ တိုင်အောင် ကာလက်၏
၁၅ အမွေမြေဖြစ် သတည်း၊- ဟေဗြုန်မြို့သည်အ
ထက်ကကိရယသာအာဘမည်မှ၏၊အာဗသည်
အာနကအမျိုးသားတို့တွင်လူကြီးဖြစ်၏၊ ထိုအ
ခါတပြည်လုံးငြိမ်းလေ၏၊

၁၅

၁ ယုဒအမျိုးသားတို့သည်စာရေးတံပြု၍၊အမွေ
အမျိုး အလိုက်၊အမွေခံရသော မြေ ဟူမူကား၊
တောင်မျက်နှာ၌ဧဒုံပြည်နယ် နှင့် ဇိန်တောကွင်း၊
တောမန် ပြည် စွန်းမှ စ၍ ဇိနတော ဖြစ် သော၊-
၂ တောင်အတက်ပိုင်း အခြားသည် သောဒုံပင်လယ်၌
၃ တောင် အရပ်မှထွက်၍၊- တောင်မျက်နှာနား၊
အကရဗ္ဗိမ် ကုန်း ကို ရှောက် လျှက်၊ ဇိန ရွာသို့
ရောက်သေး၏၊တဖန်တောင်မျက်နှာနား၊ကာဒေ
ရှဗာနာ ရွာ၊ ဟေဇရုန်ရွာ၊ အာဒါရွာ၊ကာကာ
၄ ရွာ၊- အဇမုန် ရွာကို ရှောက် သဖြင့် အဲဂုတ္တု
၅ ချောင်းသို့လိုက်၍၊ပင်လယ်၌ဆုံးလေ၏-အရှေ့
အကတ်၌သော ဒုံ တိုင်သည်၊ ယော်ဒန်မြစ် ဝ ထိုင်
အောင်၊ အ ရှေ့ အပိုင်း အခြား ဖြစ် ၏၊ မြောက်
အက်အပိုင်း၊အခြားသည်၊ယော်ဒန်မြစ်သို့ရောင်း
၆ ရာ၊ သော ဒိုင် ဇွေမှထွက်၍၊- ဗေသောဂလ
ရွာသို့ငှင်၊ ဗေသရာဗရွာမြောက်နားမှာရှောက်
လျှက်၊ ရုဗင်သား ဗော ဟန်၏ ကျောက်သို့ ရှင်

၇ ရောက်လေ၏။- အာဒေါမ်မြို့နှင့် ခြောက်ထက် ဖ
ထွက်၍၊ ဧမိရှောသို့ရှင်၊ မြစ်တောင်ထက်၊ အ
ရှေ့မိ ကုန်းရှေ့၌ရှိသော ဂိလဂါလ မြို့သို့ ရှင်
ရောက်ပြီးမှ၊ အင်ရှေမတ်ရေ၊ အင်ရောဂေလ
၈ ရွာထပ်သို့လိုက်လျှက်၊- ထိုနောက်ဟိန္နုံသား၏ချိုင့်နား၊
ယေရုရှလင်မြို့ရာ ယေဗုသိ အရပ် တောင်ဘက်
နားမှာ ရှောက်၍၊ ထိုနောက်ချိုင့်အနောက်၊ ရေဖိမ်
ချိုင့်မြောက်ထက်၌ရှိသော တောင်ပေါ်သို့တက်
၉ လေ၏။- ထိုတောင်ပေါ်မှဆင်းပြန်၍၊ နေဖတော
စမ်းရေတွင်းကို ရှောက်သဖြင့်၊ ဧဖရုန် တောင်
နှင့် ဆိုင်သောမြို့ရွာ၊သို့ရှင်၊ ကိရယ သတ်ယာရိမ်
၁၀ မြို့ရာ ဗာလာ မြို့ သို့ရှင်၊- ဗာလာ မြို့ အနောက်
ထက်နားမှာ ရှောက်လျှက်၊ စိရ တောင် သို့ ရှင်၊
ခေသလုန်တောင်တဦးဟူသော၊ယာရိမ်တောင်
မြောက်ဘက်နားမှာရှောက်လျှက်၊ဗက်ရှေမတ်
၁၁ မြို့၊ တိမနာ မြို့သို့ ရှင်၊- ဧကြုန် မြို့ မြောက်ထက်
နား မှာ ရှောက်လျှက်၊ ရှိကြုန်ရွာသို့ရှင်၊ ဗာလာ
တောင်သို့ ရှင်၊ ယာဗနေလ ရွာသို့ရှင် ရောက်၍၊
၁၂ ပင်လယ် ၌ ဆုံးလေ၏။- အနောက်ထက်၌၊ ပင်
လယ်ကြီးနှင့်ပင်လယ်ကမ်းပါးသည်၊အနောက်
အပိုင်း အခြား ဖြစ်၏။ ဤ (၂) ကား၊ ယုဒ အမျိုး
သား အဆွေ အမျိုး အလိုက် နေရာ ပြည် နယ် အ
ပိုင်းအခြားဖြစ်သတည်း။
၁၃ ထာဝရဘုရား မှာထားတော်မူသည်အတိုင်း၊
ယောရှုသည်ယုဒအမျိုးသား တို့တွင်၊ ယေဖုန္နာ
၏သား၊ ကာလက်အဖို့၊ ဟေဗြုန် မြို့တည်း ဟူ
သော၊ အာနက အဖ အာဗာ၏ မြို့ကို ပေးလေ
၁၄ ၏။- ထိုမြို့ထဲက၊ကာလက်သည်အာနကသား သုံး
ယောက်၊ ရှေရှဲ၊ အဟိမန်၊ တာလမဲတို့ ကို နှင်
၁၅ ထုတ်သော နောက်၊- ကိရယသေဖ အမည်
တောင်းရှိသော၊ ဒေဗိရမြို့သားတို့ရှိရာသို့တဖန်
၁၆ ချီသွား၍၊- ကိရယသေဖမြို့ကို တိုက်ယူလုပ်
ကြံသောသူအား၊ ငါသည် ထွေး အာခသကို ပေး
၁၇ စားမည်ဟု ဆိုလျှင်၊- ကာလက်ညီ၊ ကေနတ်၏
သား ဩသံယေလသည် ထိုမြို့ကို တိုက် ယူ ၍၊
ကာလက်သည်၊ ထွေး အာခသ ကို ထု အား ပေး
၁၈ စားလေ၏။- ထိုမိန်းမသည် ခရီးသွားစဉ် အခါ၊
လယ်တကွက်ကိုအဘ၌ တောင်းခြင်းငှါ ထင်နှင့်
ထိုင်စဝ် ပြီးမှ၊ မြည်းပေါ်က ဆင်း လေ၏၊ အဘကာ
လက်က၊ အဘယ်အလိုရှိသနည်းဟုမေးလျှင်၊-
၁၉ ထွေးကာကောင်းကြီးပေးစေချင်ပါ၏၊ ကိုယ်တော်
သည်တောင်မျက်နှာအရပ်ကိုပေးပါပြီ၊ စမ်းရေ
တွင်းတို့ကိုလည်း ပေးတော်မူပါဦးဟု တောင်း
သည်အတိုင်း၊ အဘသည်အထက်စမ်းရေတွင်း၊
၂၀ အောက် စမ်းရေတွင်း တို့ကို ပေးလေ၏။- ဤရွေ
ကား၊ ယုဒအမျိုးသား၊ အဆွေအမျိုးအလိုက်ခံရ
သောအမွေမြေဖြစ်သတည်း။
၂၁ ယုဒအမျိုးသားပိုင်သော မြို့ရွာ၊ တို့ ရှု ကား
ဧဒုံပြည်နှင့် နီးစပ်သော တောင်ပိုင်း၌ ကဗ်ဇေ
၂၂ လမြို့၊ ဧဒေရမြို့၊ယာဂုရမြို့၊- ကိနမြို့၊ ဒိမောနမြို့၊
၂၃ အာဒဒါမြို့၊- ကေဒေရှမြို့၊ ဟာဇော်မြို့၊ ဣသနန်
၂၄,၂၅ မြို့၊- ဇိဖမြို့၊ တေလင်မြို့၊ ဗာလုတ်မြို့၊- ဟာ
ဇော် မြို့ သစ်၊ ဟာ ဇော် မြို့ ဟောင်း တည်း ဟူ
၂၆ သော၊ဟေဇရုန်မြို့၊- အာမန်မြို့၊ ရှေမမြို့၊ မောလ
၂၇ ဒမြို့၊- ဟာဇာဂဒ္ဒမြို့၊ ဟေရှမုန်မြို့၊ ဗက်ပါလတ်
၂၈ မြို့၊- ဟာဇာရှုာလမြို့၊ ဗေရရှေဘမြို့၊ ဗိဇ္ဇောသ
၂၉,၃၀ သာမြို့၊- ဗာလာမြို့၊ ဣယိမ်မြို့၊ အာဇင်မြို့၊- ဧ
၃၁ လတောလဒ်မြို့၊ ခေသိလမြို့၊ ဟောမာမြို့၊- ဇိက
၃၂ လတ်မြို့၊ မာဒမန္နာမြို့၊ သံသန္နာမြို့၊- လေဗောတ်
မြို့၊ ရှိလဟိမ်မြို့၊ အဲဟိန်မြို့၊ ရိမ္မုန်မြို့၊ ရွာနှင့်တ
ကွ မြို့ပေါင်းကား၊ သုံးဆယ်ခြောက်မြို့တည်း။-
၃၃ ချိုင့်၌ လည်း ဧရှတောလ မြို့၊ ဇောရာမြို့၊ အာရှ
၃၄ နာမြို့၊- ဇာနောမြို့၊ အင်ဂန္နိမ်မြို့၊ တာပွာမြို့၊ ဧနံမြို့၊-
၃၅ ယာရမုတ်မြို့၊ အဒုလံမြို့၊ ဇောခေါမြို့၊ အဇေကာ
၃၆ မြို့၊- ရှာရိမ်မြို့၊ အဒိသိမ်မြို့၊ ဂဒေရမြို့၊ ဂဒေရော
သိမ်မြို့၊ ရွာနှင့်တကွ မြို့ပေါင်းကား၊ ဆယ်လေးမြို့
၃၇ တည်း။- ထိုမှ တပါး၊ ဇေနန်မြို့၊ ဟာဒါရှမြို့၊ မိဂ
၃၈ ဒလဂဒ်မြို့၊- ဒိလန်မြို့၊ မိဇပါမြို့၊ ယောက္ကသေလ
၃၉ မြို့၊- လာခိရှမြို့၊ ဗောဇကတ်မြို့၊ ဧဂလုန်မြို့၊-
၄၀,၄၁ ကဗ္ဗုန်မြို့၊ လာမံမြို့၊ ကိသလိတ်မြို့၊- ဂဒေရုတ်
မြို့၊ ဗက်ဒါဂုန်မြို့၊ နေမမြို့၊ မက္ကဒါမြို့၊ ရွာနှင့်တ
၄၂ ကွ ဆယ်ခြောက်မြို့တည်း။- ထိုမှတပါး၊ လိဗနာ
၄၃ မြို့၊ ဧသာမြို့၊ အာရှန်မြို့၊- ယိဖတာမြို့၊ အာရှနာမြို့၊
၄၄ နေဇိဗ်မြို့၊- ကိလမြို့၊ အာခဇိပ်မြို့၊ မရေရှမြို့၊ ရွာ
၄၅ နှင့်တကွ ကိုးမြို့ တည်း။- ထိုမှတပါး၊ ဧကြုန်မြို့
၄၆ နှင့်သူဆိုင်သော မြို့ရွာများ၊- ဧကြုန်မြို့မှစ၍ ပင်
လယ် တိုင်အောင်၊ အာဇုတ်မြို့နှင့် နီးစပ်သော
၄၇ မြို့ရွာများ၊- အာဇုတ် မြို့နှင့် သူဆိုင် သော မြို့ရွာ
များ၊ အဲဂုတ္တုမြစ်၊ ပင်လယ်ကြီး၊ ပင်လယ်ကမ်း
ပါးတိုင်အောင်၊ ဂါဇမြို့နှင့်သူဆိုင်သောမြို့ရွာ
၄၈ များ၊- တောင်ပေါ်၌လည်း၊ ရှမိရမြို့၊ ယတ္တိရမြို့၊
၄၉ ဇောခေါမြို့၊- ဒန္နမြို့၊ ဒေဗိရမြို့တည်းဟူသော ကိရ
၅၀ ယသန္နမြို့၊- အာနပ်မြို့၊ ဧရှတမောမြို့၊ အာ
၅၁ နိမ်မြို့၊- ဂေါရှင်မြို့၊ ဟောလုန်မြို့၊ ဂိလောမြို့၊ ရွာ

၅၂ နှင့်အကျွ ဆယ်တမြို့တည်း။– အာရပ်မြို့၊ ဒုမာ
၅၃ မြို့၊ ဧရှန်မြို့၊– ယာနုံမြို့၊ ဗက်တာပွာမြို့၊ အာဖက်
၅၄ မြို့၊– ဟုမတ်မြို့၊ ဟေဗြုန်မြို့တည်းဟူသော၊ ကိရ
ယသာဘမြို့၊ ဇိအောရမြို့၊ ရွာနှင့်တကွ ကိုးမြို့
၅၅ တည်း။– မောင်မြို့၊ ကရမေလမြို့၊ ဇိဖမြို့၊ ယုတ္တ
၅၆ မြို့၊– ယေဇရေလမြို့၊ ယောကဒံမြို့၊ ဇာနောမြို့၊–
၅၇ ကဣနမြို့၊ ဂိဗာမြို့၊ တိမနမြို့၊ ရွာနှင့်တကွဆယ်
၅၈ မြို့တည်း။–ဟာလဟုလမြို့၊ ဗက်ဇုရမြို့၊ ဂေဒေါ်
၅၉ မြို့၊– မာရပ်မြို့၊ ဗေသနုတ်မြို့၊ ဧလတေကုန်မြို့၊
၆၀ ရွာနှင့်တကွခြောက်မြို့တည်း။– ကိရယတ်ဗာလ
မြို့တည်းဟူသော၊ ကိရယတ်ယာရိမ်မြို့၊ ရဗ္ဗာ
မြို့၊ ရွာနှင့်တကွ နှစ်မြို့တည်း။– တော၌လည်း၊
၆၁ ဗေသရာဗမြို့၊ မိဒ္ဒိန်မြို့၊ သေကာကမြို့၊– နိဗရှန်
၆၂ မြို့၊ မြို့ဆားမြို့၊ ဧင်ဂေဒိမြို့၊ ရွာနှင့်တကွခြောက်
၆၃ မြို့တည်း။– ယေရုရှလင်မြို့၌ နေသော ယေဗုသိ
လူတို့ကိုကား၊ ယုဒအမျိုးသားတို့သည် မနှင်
ထုတ်နိုင်ဘဲ၊ သူတို့သည်ယနေ့တိုင်အောင်၊ ယုဒ
အမျိုးသားတို့နှင့်အတူ၊ ယေရုရှလင်မြို့၌နေကြ
သတည်း။

၁၆

၁ ယောသပ်အမျိုးသားတို့သည် စာရေးတံပြု
၍၊ အမွေခံရသောမြေအပိုင်းအခြားသည်ယော်
ဒန်မြစ်နား၊ ယေရိခေါမြို့အရှေ့၊ ယေရိခေါရေကိုင်
မှထွက်၍၊ တောထမ်းသို့ လိုက်လျက်၊ ဗေသလ
၂ တောင်တလျှောက်လုံး သွားသဖြင့်၊– ဗေသလ
၃ လုဇမြို့သို့ရှင်၊ အာခိ အတာရုတ်မြို့သို့ရှင်၊ အ
နောက်မျက်နှာ၌ယာဖလေတိမြို့သို့ရှင်၊ အောက်
ဗက်ဟောရုန်မြို့သို့ရှင်၊ ဂေဇာမြို့သို့ရှင်ရောက်
၄ ၍၊ ပင်လယ်၌ ဆုံးလေ၏။– ထိုသို့ ယောသပ်၏
သား မနာရှေနှင့် ဧဖရိမ်တို့သည် အမွေခံရ
ကြ၏။
၅ ဧဖရိမ်အမျိုးသားတို့သည်၊ အဆွေအမျိုးအ
လိုက်၊ နေသောမြေအပိုင်းအခြားသည်၊ အရှေ့
ထက်၌အတာရုတ်အဒ္ဒါမြို့မှ အထက်ဗက်ဟော
၆ ရုန်မြို့သို့လိုက်၍၊– မြောက်မျက်နှာ၌ပင်လယ်
နား၊ မိတ်မေသမြို့သို့ ထွက်၏။ တဖန် အရှေ့သို့
မျက်နှာပြု၍၊ တာနတ်ရှိလောမြို့အရှေ့မှာ
၇ ရှောက်လျက်၊– ယနောဟမြို့သို့ရှင်၊ ယနောဟ
မြို့မှ အတာရုတ်မြို့၊ နာရတ်မြို့၊ ယေရိခေါမြို့သို့
၈ ၎င်ရောက်၍၊ ယော်ဒန်မြစ်၌ဆုံးလေ၏။–တာပွာ
မြို့မှ အနောက်သို့ သွား၍၊ ကာနမြစ်သို့ လိုက်
၉ လျှောက်၊ ပင်လယ်၌ဆုံးလေ၏။– ဤရွေကား၊ မနာ
ရှေအမျိုးသားတို့ အမွေခံရသောမြေ၌၊ ဧဖရိမ်
အမျိုးသားတို့ အဖို့ ခွဲထားသော မြို့ရွာနှင့် တ
ကွ၊ ဧဖရိမ် အမျိုးသား အဆွေ အမျိုးအလိုက်၊
၁၀ အမွေခံရသော မြို့ရွာများဖြစ်သတည်း။–ဂေဇာ
မြို့၌နေသော ခါနာန်လူတို့ကို မနှင်ထုတ်ဘဲ၊ သူ
တို့သည် ယနေ့တိုင်အောင်၊ ဧဖရိမ် အမျိုးသား
တို့နှင့်အတူနေ၍ အခွန်ပေးရကြ၏။

၁၇

၁ ယောသပ်၏ သားဦး မနာရှေအမျိုးသား တို့
သည်၊ စာရေးတံ ပြု၍ အမွေ ခံရသော မြေဟူမူ
ကား၊ မနာရှေ၏ သားတည်းဟူသော၊ ဂိလဒ်၏
အဖ မာခိရသည်စစ်သူရဲ ဖြစ်၍၊ ဂိလဒ်ပြည်နှင့်
၂ ဗာရှန်ပြည်ကိုရ၏။– ယောသပ်၏ သား၊ မနာရှေ
၏ သား၊ ယောကျ်ားအခြားတည်းဟူသော၊ အဗ
ယေဇာသား၊ ဟေလက်သား၊ အသရေလသား၊
ရှေခင်သား၊ ဟေဖာသား၊ ရှမိဒါသားတို့သည်အ
ဆွေအမျိုးအလိုက် စာရေးတံပြု၍ ရကြသော
၃ ၏။– သို့ရာတွင်၊ မနာရှေ၊ မာခိရ၊ ဂိလဒ်၊ ဟေ
ဖာ တို့မှ ဆင်းသက်သော ဇလောဖဒ် ၌ သား
ယောကျ်ားမရှိ၊ သမီးသက်သက်သာ ရှိ၏။ သူ၏
သမီးတို့ အမည်ကား၊ မာလာ၊ နောအာ၊ ဟောဂ
၄ လာ၊ မိလကာ၊ တိရဇာတည်း။– ထိုမိန်းမတို့သည်
ယဇ်ပုရောဟိတ်ဧလာဇာ၊ နွန်၏သားယောရှု၊
မင်းများရှေ့သို့ ချဉ်းကပ်၍၊ အကျွန်ုပ်တို့ပေါက်
ဖော်နှင့်အတူအမွေခံရသောအခွင့်ကိုအကျွန်ုပ်
တို့အားပေးစေခြင်းငှါ၊ ထာဝရဘုရားသည်မော
ရှေကိုမှာထားတော်မူပြီဟု လျှောက်၍၊ ထာဝ
ရဘုရား မှာထားတော်မူသည်အတိုင်း၊သူတို့အ
ဖ၏ညီအစ်ကိုတို့နှင့်အတူအမွေခံရသောအခွင့်
၅ ကိုပေး၏။–ထိုသို့မနာရှေ၏သမီးတို့သည်၊သားတို့
၆ နှင့်အတူ အမွေကိုခံရ၍၊ မနာရှေ၏ သားအမျိုး
တို့သည်ဂိလဒ်ပြည်ကိုရသောကြောင့်၊ယော်ဒန်
မြစ်အရှေ့ဘက်ဂိလဒ်ပြည်နှင့် ဗာရှန်ပြည်မှတ
ပါး၊ မနာရှေအမျိုးသည်ဆယ်ဖို့ကိုရသတည်း။
၇ မနာရှေခရိုင် အပိုင်းအခြားသည်၊ အာရှာခ
ရိုင်မှ ရှေခင်မြို့ ရှေ့တွင် ရှိသော မိတ်မေသ မြို့သို့
သွား၍၊ လက်ျာဘက်၌ အင်တာပွာမြို့သို့လိုက်
၈ လေ၏။– တာပွာ မြို့နယ် ကို မနာရှေ ပိုင် သော်
လည်း၊ မနာရှေခရိုင်စွန်းမှာရှိသောတာပွာမြို့ကို
၉ ဧဖရိမ်သားတို့သည်ပိုင်ကြ၏။– တဖန်အပိုင်းအ
ခြားသည်ကာနမြစ်တောင်ဘက်သို့လိုက်၍၊မနာ
ရှေမြို့တို့တွင်ဧဖရိမ်မြို့အမှု ပါသော်လည်း၊မြစ်

မြောက်ဘက် မြေသည် မနာရှေ မြေဖြစ်၍၊ ပင်
၁၀ လယ်၌ ဆုံးလေ၏။- တောင်ဘက်၌ ဧဖရိမ်မြေ၊
မြောက်ဘက်၌ မနာရှေမြေ ဖြစ်လျက်၊ ပင်လယ်
ထိန့်ကွက်၍၊ မြောက်ဘက်၌ အာရှာဘိုင်၊ အရှေ့
၁၁ ဘက်၌ ဣသခါ အမျိုးနှင့် ခြိမ်၏။- ထိုခရိုင်၌ မနာရှေ အ
မျိုး ရသော ပြည်လုံး ပြည်တို့မှာ၊ ဗက်ရှန်မြို့
နှင့်သူ့မြို့ရွာများ၊ ဣဗလံမြို့နှင့် သူ့မြို့ရွာများ၊ ဒေါ
ရမြို့နှင့် သူ့မြို့ရွာများ၊ အေန်ဒေါရမြို့နှင့် သူ့မြို့ရွာ
များ၊ တာနက်မြို့နှင့် သူ့မြို့ရွာများ၊ မေဂိဒ္ဒေါမြို့
၁၂ နှင့်သူ့မြို့ရွာများတို့ကို ရသေး၏။- သို့ရာတွင်၊ မ
နာရှေ အမျိုးသားတို့သည် ထိုမြို့တို့ကို မသိမ်းမ
ယူနိုင်သဲ၊ ခါနာန်လူတို့သည် ထိုအရပ်၌ အနိုင်
၁၃ နေကြ၏။- ဣသရေလလူတို့သည် အားတိုးပွား
သောအခါ၊ ထိုခါနာန်လူတို့ကို အကုန်အစင် မနှင်
ထုတ်ဘဲ အခွန်ပေးစေကြ၏။
၁၄ ယောသပ်အမျိုးသားတို့ကလည်း၊ အကျွန်ုပ်
တို့သည် ထာဝရဘုရားပေးတော်မူသောကြောင်း
ကြီးမားသော ဘိုးဘ ရသ ဖြင့် အမျိုးကြီး ဖြစ်၍၊
ကိုယ်တော်သည် တမွေ၊ တခရိုင်တည်းကိုသာ အ
ထိုက် ကြောင့် ပေးပါ သနည်းဟု၊ ယောရှု အား
၁၅ မေးလျှောက် ကြ သော်၊- ယောရှုက၊ သင်တို့
သည် အမျိုးကြီးဖြစ်၍၊ ဧဖရိမ်တောင် ကျဉ်း
မြောင်းလျှင်၊ တော အရပ် သို့ သွား၍၊ ဖေရဇိ
ပြည်၊ ရေဖိမ်ပြည်၌ ခုတ်ဖျည်း ကြလော့ဟုပြန်
၁၆ ပြော၏။- ယောသပ်အမျိုးသားတို့ကလည်း၊ ဧ
ဖရိမ် တောင်သည် အကျွန်ုပ်တို့အဖို့ မလောက်
ပါ၊ ချိုင့်အရပ်၊ ဗက်ရှန် မြို့ရွာတို့၌ နေ၍၊ ယေဇ
ရေလ ချိုင့်၌ နေသော ခါနာန်လူ အပေါင်းတို့
သည်၊ သံရထားနှင့် ပြည့်စုံပါသည်ဟု လျှောက်
၁၇ ပြန်လျှင်၊- ယောရှုက၊ သင်တို့သည် အမျိုးကြီး
ဖြစ်၍ ခွန်အား ကြီးသောကြောင့်၊ တမွေတည်း
၁၈ ကိုသာ မယူရ။- တောင်သည်လည်း၊ သင်တို့အ
ဖို့ဖြစ်လိမ့်မည်၊ သစ်ပင်များလျှင်၊ ခုတ်လှဲ၍ ရ
စည်း၊ ထွက်ရာ အပိုင်းတို့သည်လည်း၊ သင်တို့အဖို့
ဖြစ်လိမ့်မည်။ ခါနာန်လူတို့သည် ခွန်အားကြီး၍၊
သံရထားနှင့် ပြည့်စုံသော်လည်း၊ သူတို့ကို နှင်
ထုတ်ကြလိမ့်မည်ဟု၊ ဧဖရိမ် အမျိုး မနာရှေ အ
မျိုးတည်းဟူသော၊ ယောသပ် အမျိုး သားတို့
အား ပြောဆို၏။

၁၈

၁ ဣသရေလ အမျိုး ပရိသတ် အပေါင်းတို့သည်၊
ရှိလောမြို့မှာ စည်းဝေး၍၊ ပရိသတ် စည်းဝေး
ရာ တဲတော်ကို တည်ထောင်ကြ၏။ ထိုမြေမှာ
၂ တပြည်လုံး နိုင်ငံလျက် ရှိ၏။- ထိုအခါ ဣသရေ
လ အမျိုး ခုနစ် မျိုးတို့သည်၊ အမွေမြေကို မခံရ
၃ သေးသည် ဖြစ်၍၊- ယောရှုက၊ သင်တို့ ဘိုးဘေး
များ၏ ဘုရားသခင် ထာဝရဘုရား ပေးတော်မူ
သော မြေကို၊ သင်တို့ သည် မသိမ်းမယူဘဲ၊ အ
ဘယ်မျှ ကာလ ပတ်လုံး နေကြလိမ့်မည်နည်း။-
၄ သင်တို့တွင် အမျိုး တမျိုးလျှင်၊ လူသုံးယောက်စီ
ရွေးကောက်၍၊ ငါစေလွှတ် သဖြင့် သူတို့ သည်
တပြည်လုံးသို့ ထသွား၍၊ အမွေခံဆင့်သည် အ
တိုင်း ရေးသားပြီးမှ၊ ငါထံသို့ ပြန်လာရကြမည်။-
၅ သူတို့သည် ပြည်ကို ခုနစ်ပိုင်းပိုင်း ခြားရကြမည်။
ယုဒ အမျိုး သည် တောင်ဘက်၊ မိမိနေရာ၌ နေ
ရမည်၊ ယောသပ် အမျိုး သည် မြောက်ဘက်၊
၆ မိမိနေရာ၌ နေရ မည်။- ပြည်ကို ခုနစ်ပိုင်း ပိုင်း
ခြားပြီးမှ၊ ပြည်ပုံကို ငါထံသို့ ဆောင်ခဲ့၍၊ ငါတို့
ဘုရားသခင် ထာဝရဘုရား ရှေ့တော်၌၊ သင်တို့
၇ အဖို့ စာရေးတံ ပြုမည်။- လေဝိသားတို့သည် သင်
တို့ နှင့် ရော၍ အဖို့ကို မယူရ၊ ထာဝရ ဘုရား၏
ယဇ်ပုရောဟိတ် အရာသည် သူတို့ အမွေဖြစ်၏။
ဂဒ်အမျိုး၊ ရုဗင် အမျိုး၊ မနာရှေ အမျိုး တဝက်
တို့သည် ယော်ဒန်မြစ် အရှေ့ဘက်၊ ထာဝရဘုရား
၏ ကျွန် မောရှေ ပေးသည် အတိုင်း၊ အမွေမြေကိုခံ
ယူကြပြီဟု၊ ဣသရေလ လူတို့အား ပြောဆို၏။-
၈ ထိုလူတို့ သည် ထ၍ သွား သဖြင့်၊ ယောရှု က
လည်း၊ တပြည်လုံးသို့ ရှောက်၍ ရေးသားပြီး
လျှင်၊ ငါထံသို့ ပြန်လာ ကြလော့၊ ရှိလောမြို့မှာ
ထာဝရဘုရား ရှေ့တော်၌ သင်တို့အဖို့ စာရေးတံ
ပြုမည် ဟု၊ ပြည်ပုံ ကို ရေး သား ခြင်းငှါ သွား
၉ သောသူ တို့ကို မှာထားသည်နှင့် အညီ၊- သူတို့
သည် တပြည်လုံးသို့ ရှောက်သွားသဖြင့်၊ မြို့ရွာ
ရှိသည် အတိုင်း၊ စာ၌ ခုနစ်ပိုင်းပိုင်း၍ ရေးသား
ပြီးမှ၊ ယောရှု နေရာ ရှိလော တပ် သို့ ရောက်
၁၀ လာကြ၏။- ယောရှုသည် ရှိလောမြို့မှာ၊ ထာဝရ
ဘုရား ရှေ့တော်၌ စာရေးတံ ပြု၍၊ ဣသရေလ အ
မျိုးသား အသီးအသီး တို့ အား မြေကိုပိုင်း ခြား
ပေး၏။
၁၁ ဗင်္ယာမိန် အမျိုးသားတို့သည် စာရေးတံ ပြု၍၊
အဆွေအမျိုး အလိုက် ခံရသော မြေသည်၊ ယုဒ
အမျိုး သားတို့ နှင့် ယောသပ် အမျိုးသား တို့စပ်
၁၂ ကြားမှာ ကျ၏။- မြေအပိုင်း အခြားသည် မြောက်
ဘက် နှာ၌ ယော်ဒန်မြစ်မှ ထွက်၍၊ ယေရိခေါမြို့

ခြောက်ထတ် နားခွဲဖင်၊ အနောက်အတ် တောင်
ပေါ်ရှိ ဖင် ရှောတ် လျှတ်၊ မေ ထ ဝင် တော သို့
၁၃ ထွတ် သွား၏။– တဖန် တောင်ဗျက် နှာသို့ သွား
၍မေထထလုဇ မြို့နားခွဲရှောက်သ ဖြင့်၊အောက်
မတ်ထော ဂုန် မြို့တောင်ထ က်မှာမှိသောတောင်
ခြေရင်း၊ အတရုတ်အဂ္ဂါ မြို့သို့ ရောက်ပြီး လျှင်၊–
၁၄ ထိုတောင်မှထွက်၍၊ အိုင်တောင်ကျွေကိုပိုင်းထ
မြင့်၊ ငှုဗ အမျိုးသား နေ သော ကိရ ယတ် ထာ
ရိမ်မြို့ ထည်း ဟူသော၊ ကိရ ထတ် ဗာလမြို့ တို့
ထွတ်သွား၏။ ဤ႕ကြောင်း၊ အနောက်ထတ် အ
၁၅ မိုင်းအခြားတဦး။– တောင်အ က် အမိုင်းအခြား
ထည်၊ ကိရ ထတ် ယာ ရိမ် မြို့နွှန်းမှ အနောက်
ထတ် နား ခွဲ နေဖတော ရေ တွင်း သို့ ရောက် ပြီး
၁၆ လျှင်၊– ထိ န္နုံ သား ၏ ရှိုင့် ရွှေ မှာ၊ ရေဖိမ် ရှိုင့်
ခြောက်ခွဲ မှိသော တောင်ခြေရင်းသို့လာ၍၊ ထေ
ဗူသိမြို့ တောင်ထတ်၊ ထိ နှုံ ရှိုင့်သို့ဖင်၊ အင်ရိ
၁၇ ကထရွှာသို့ ဖင်၊– ခြောက် ထတ် နားခွဲ အင်ရှေ
မတ်ရွှာသို့ဖင်၊အဒုမ္မိမ်ကုန်းတဖက်၊ဂေလိလုတ်
ရွှာသို့ဖင်၊ ရုဗင်သားဗောထန်၏ကျောက်သို့ဖင်
၁၈ ရောက်ထေ၏၊–တဖန်အရာဗမြို့ခြောက်ဗျက်နှာ
ထဖတ်၊ လွင်ပြင်နားမှာရှောတ်၍၊ အရာဗမြို့သို့
၁၉ ရောက်ထမြင့်၊–ဗက်ဟောဂလမြို့ခြောက်ထတ်
နား မှာ ရှောတ်၍၊ သောရံ အိုင် ခြောက် ကျွေ၊
ယော်ဒန်မြစ်ဝခွဲဆုံးထေ၏၊ ဤ႕ကြောင်း၊ တောင်
၂၀ ထတ် အ ပိုင်း အ ခြား တ ည်း။– ယော် ဒန် မြစ်
ထည် အ ရှေ့ ထ က် ပိုင်း ခြား လျက် ရှိ ၏၊ ဤ
႕ကြောင်း၊ ဗယ်ာမိန်အမျိုးသားတို့ သည်၊အဆွေ
အမျိုးအလိုက်၊ အ ငွေခံရသော မြေနယ် ဖြစ်သ
ထည်း။
၂၁ ဗယ်ာမိန် အမျိုးသား တို့သည်၊ အဆွေအမျိုး
အလိုက်ရသော မြို့ရွာဟူမှုကား၊ ယေရိခေါမြို့၊
၂၂ ဗေဘောဂထမြို့၊ ဧမကွေဇဇ်မြို့၊– ဗေသရာဗမြို့၊
၂၃ ဇေမရိမ်မြို့၊ဗေသလမြို့၊– အာဝိမ်မြို့၊ပါရမြို့၊ဩ
၂၄ ဖရာမြို့၊– ခေဖာယာမောနဲမြို့၊ဩဖနိမြို့၊ဂါဘမြို့၊
၂၅ ရွာနှင့်တကွ ဆယ် နှစ် မြို့ တ ည်း။– ထိုမှတပါး၊ဂိ
၂၆ ဗောင်မြို့၊ ရာမမြို့၊ ဗေရုတ်မြို့၊–မိဇပါမြို့၊ ခေဖိရ
၂၇ မြို့၊မောဇမြို့၊–ရေကင်မြို့၊ ဣရပေထမြို့၊တာရထ
၂၈ မြို့၊– ဇေထမြို့၊ ဧလပ် မြို့၊ ယေဗု ရှ လင် မြို့တည်း
ဟူသောယေဗုသိမြို့၊ဂိဗတ်မြို့၊ကိရယတ်မြို့၊ရွာ
နှင့်တကွဆယ်လေးမြို့တဦး၊ဤ႕ကြောင်း၊ဗယ်ာ
မိန်အမျိုးသားတို့သည်၊အဆွေအမျိုးအလိုက်ခံ
ရသောအငွေတည်း။

၁၉

၁ ဒုတိယတကြိမ်စာရေးတံပြု၍၊ရှိမောင်အမျိုး
သားတို့သည် အဆွေအမျိုးအလိုက်၊ ထုဇအငွေ
၂ မြေအတွင်း၌အငွေခံရကြ၏။–သူတို့အငွေမြေ၌
မှိသော မြို့ရွာ ဟူမှု ကား၊ ဗေရ ရှေ ထမြို့၊ ဗော
၃ ထဓါမြို့၊– ဟာ ဇာ ရွှာ ထမြို့၊ ဗာထာမြို့၊ အာဇင်
၄ မြို့၊–ဧလတောလဒ်မြို့၊ ဗေသုထမြို့၊ ဟောမာမြို့၊–
၅ ဇိကလတ်မြို့၊ ဗတ်မာက ဗုတ်မြို့၊ ဟာဇာသုသ
၆ မြို့၊–ဗတ်လေ ဗောက်မြို့၊ ရှရုထင်မြို့၊ ရွာနှင့်တ
၇ ကွ ဆယ်သုံးမြို့ တည်း။– ထိုမှတပါး၊ အင်ရိမ္မုန်
မြို့၊တောခင်မြို့၊ဧသာမြို့၊အာရှန်မြို့၊ရွာနှင့်တကွ
၈ လေးမြို့တည်း။–ထိုမှတပါး၊ တောင်ဗျက် နှာ ရှိ
ဗာထတ် ဗေရရာ မတ်မြို့တိုင်အောင်၊ အထထ်
ဆိုခဲ့ပြီးသောမြို့ ပတ်ဝန်းကျင် ရွာမှိသမျှ ပါသ
တဦး၊ ဤ႕ကြောင်း၊ရှိမောင်အမျိုးသားတို့သဦး၊
၉ အဆွေအမျိုးအလိုက်ခံရသောအငွေတည်း။– ရှိ
မောင် အငွေမြေသည်၊ ထုဇ အမျိုးသား ခံသော
အမှို့ ထဲက နှုတ်ရ၏၊ ထုဇ အမျိုး သားတို့ အမှို့
ထည် ကြီးကျယ်သော့ကြောင့်၊ သူတို့အငွေမြေ
အတွင်း၌ရှိမောင်အမျိုးသားတို့သည်အငွေခံရ
ကြ၏။
၁၀ တတိယတကြိမ်စာရေးတံပြု၍၊ဇာဗုလုန်အ
မျိုးသားတို့သည်၊ အဆွေအမျိုးအလိုက်အငွေခံ
ရကြ၏၊ သူတို့အငွေမြေအပိုင်းအခြားသည်ဆ
၁၁ ရိဒ်မြို့မှထွက်၍၊– အနောက်သို့ သွားလျှတ်မရာ
ထမြို့၊ ဒဗ္ဗရှက်မြို့ သို့ဖင်၊ ယောကနံမြို့ ရှေ့မှာ မှိ
၁၂ သော မြစ်သို့ဖင် မှိထေ၏။– တဖန် ဆာရိဒ်မြို့မှနေ
ထွက်ရာ အရှေ့ ဗျက် နှာသို့ ဗျည့် ထမြင့်၊ ခိဿ
လုတ္တာဗော်မြို့၊ ဓါဗရတ်မြို့သို့ ရောက်ပြီးလျှင်၊
၁၃ ယာဖျာမြို့သို့ တတ်ထေ၏။– ထိုမြို့မှဖ၍၊ အရှေ့
ထက်နားမှာ ယိုက်လျှက်၊ဂိတ္တဟေဖာမြို့၊ ဧတ္တ
ကာဇိန်မြို့၊ ရိမ္မုန်မေသောရနေအာမြို့သို့ရောက်
၁၄ ထေ၏၊–ခြောက်ထတ်၌လည်းပိုင်းထမြင့်၊ဟန္န
သုန်မြို့သို့ ရောက်၍၊ ယိဖသေလ ရှိုင့်၌ ဆုံးထေ
၁၅ ၏၊–ထိုမှတပါး၊ကတ္တတ်မြို့၊နဟာလာလမြို့၊ရှိမ
ရုန်မြို့၊ဣဒလမြို့၊ဗက်လင်မြို့တည်းဟူသော၊ရွာ
၁၆ နှင့်တကွဆယ် နှစ်မြို့မှိသတည်း။– ဤ႕ကြောင်း၊
မြို့ရွာပါလျှက် ဇာဗုလုန်အမျိုးသားတို့သဦး၊အ
ဆွေအမျိုးအလိုက်ခံရသောအငွေတည်း။
၁၇ စတုတ္ထတကြိမ်စာရေးတံပြု၍၊ဣသခါအမျိုး
သားတို့သည်၊ အဆွေ အမျိုးအလိုက် အငွေခံရ
၁၈ ကြ၏။– သူတို့အပိုင်းအခြားသည် ယေဇရေလ

၁၉ မြို့၊ ရှိဆုတ်မြို့၊ ရှုနင်မြို့၊-အာနဟရတ်မြို့၊ ဒါဗိရတ်
၂၀ မြို့၊ အာနဟာရတ်မြို့၊- ရဗ္ဗိတ်မြို့၊ ကိရှုန်မြို့၊ အာ
၂၁ ဗက်မြို့၊- ရေမက်မြို့၊ အင်ဂန္နိမ်မြို့၊ အင်ဟဒ္ဒါမြို့၊
၂၂ ဗက်ပဇ္ဇက်မြို့ပါလျက်၊-တာဗော်မြို့၊ ရှာဟဇိ
မမြို့၊ ဗက်ရှေမက်မြို့သို့ ရောက်၍၊ ယော်ဒန်မြစ်
၌ဆုံး၏။ ရွာနှင့်တကွ ဆယ်ခြောက်မြို့ရှိသ
၂၃ တည်း။-ဤရွေ့ကား၊ မြို့ရွာပါလျက်၊ ဣသခါအ
မျိုးသားတို့သည် အဆွေအမျိုးအလိုက် ခံရသော
အမွေတည်း။
၂၄ ပဉ္စမ တကြိမ် စာရေးတံပြု၍၊ အာရှာ အမျိုး
သား တို့သည် အဆွေ အမျိုး အလိုက် အမွေခံရ
၂၅ ကြ၏။- သူတို့အပိုင်းအခြားသည် ဟေလကတ်
၂၆ မြို့၊ ဟာလိမြို့၊ ဗေတင်မြို့၊ အာခရှပ်မြို့၊- အာ
လမ္မလက်မြို့၊ အာမဒ်မြို့၊ မိရှာလမြို့ပါလျက်၊ အ
နောက် ဖက်နှာ၌ ကရမေလမြို့၊ ရှိဟောရ လိဗ
၂၇ နတ်မြို့သို့ရောက်သော်၊-တဖန်နေထွက်ရာအက်
သို့လှည့်၍၊ ဗက်ဒါဂုန်မြို့၊ ဇာဗုလုန်ခရိုင်၊ ယိဖ
သေလချိုင့်ကိုရှောက်သဖြင့်၊ မြောက်မျက်နှာသို့
သွား၍ ဗေသမက်မြို့၊ နေယေလမြို့၊ကာဗုလမြို့၊-
၂၈ ဧဗြုန်မြို့၊ ရဟောဘမြို့၊ ဟမ္မုန်မြို့၊ ကာနမြို့၊
၂၉ ဇိဒုန်မြို့ကြီး၊ တိုင်အောင် ရောက်ပြီးလျှင်၊- ရာမ
မြို့၊ ခိုင်ခံ့သောတုရုမြို့၊ ဟောသမြို့သို့လှည့်လျက်၊
ပင်လယ် ကမ်း ပါး မှစ၍၊ အာခဇိပ် မြို့ တိုင်
၃၀ အောင်ပင်လယ်၌ဆုံး၏။-ဥမ္မမြို့၊ အာဖက်
မြို့၊ ရဟောဘမြို့နှင့်တကွ၊ ရွာပါလျက်နှစ်ဆယ်
၃၁ နှစ်မြို့ရှိသတည်း။- ဤရွေ့ကား၊ မြို့ရွာ ပါလျက်
အာရှာ အမျိုး သား တို့ သည် အဆွေ အမျိုး အ
လိုက် ခံရသောအမွေတည်း။
၃၂ ဆဋ္ဌမ တကြိမ် စာရေးတံပြု၍၊ နဿလိ အမျိုး
သား တို့သည် အဆွေအမျိုး အလိုက် အမွေခံရ
၃၃ ကြ၏။-သူတို့ အပိုင်း အခြားသည် ဟေလပ်မြို့၊
အာ လုန်မြို့၊ ဇာနန္နိမ် မြို့၊ အာဒမိမြို့၊ နေ ကပ်မြို့၊
ယာဗနေလမြို့၊ လာကုံမြို့ပါလျက် ယော်ဒန်မြစ်
၃၄ ၌ဆုံး၏။- တဖန်အနောက်မျက်နှာသို့လှည့်
သဖြင့်အာဇနုတ္တာဗော်မြို့၊ဟုက္ကုတ်မြို့သို့ရောက်
၍၊ တောင်ဘက်၌ ဇာဗုလုန် ခရိုင်၊ အနောက်
ဘက်၌ အာရှာခရိုင်၊ နေထွက်ရာ ဘက်၌ ယော်
၃၅ ဒန်မြစ်ဖပိုင်းအခြားရှိ၏။-ခိုင်ခံ့သောမြို့များဟူ
မူကား၊ ဇိဒ္ဒိမ်မြို့၊ ဇေရမြို့၊ ဟမ္မတ်မြို့၊ ရက္ကတ်မြို့၊
၃၆ ခိန္နေရက်မြို့၊- အာဒမာမြို့၊ ရာမမြို့၊ ဟာဇော်
၃၇ မြို့၊- ကေဒေရှမြို့၊ အဒ်ရေဣမြို့၊ အင်ဟာဇော်မြို့၊
၃၈ ဣရုန်မြို့၊ မိဂဒလေလမြို့၊ ဟောရင်မြို့၊ ဗေသနတ်

မြို့၊ ဗက်ရှေမက်မြို့၊ ရွာနှင့် တကွ ဆယ်ကိုးမြို့
၃၉ တည်း။-ဤရွေ့ကား၊ မြို့ရွာပါလျက်၊ နဿလိအ
မျိုးသားတို့သည်အဆွေအမျိုးအလိုက်ခံရသော
အမွေတည်း။
၄၀ သတ္တမတကြိမ်စာရေးတံပြု၍၊ ဒန်အမျိုးသား
တို့သည် အဆွေအမျိုးအလိုက် အမွေခံရကြ၏။-
၄၁ သူတို့အမွေခံရသော မြို့များဟူမူကား၊ ဇောရာ
၄၂ မြို့၊ ဧရှတောလမြို့၊ ဣရရှေမက်မြို့၊-ရှာလဗ္ဗိန်မြို့၊
၄၃ အာယလုန်မြို့၊ ယေသလမြို့၊-ဧလုန်မြို့၊ သိမနာ
၄၄ သမြို့၊ ဧကြုန်မြို့၊-ဧလတေကမြို့၊ ဂိဗ္ဗသုန်မြို့၊ ဗာ
၄၅ လပ်မြို့၊- ယေဟုဒ်မြို့၊ ဗေနေဗရက်မြို့၊ ဂါသ
၄၆ ရိမ္မုန်မြို့၊-မေယာကုန်မြို့၊ ရက္ကုန်မြို့၊ ယာဖောမြို့
၄၇ ရှေ့မှာရှိသောမြေပါသတည်း။- ဒန်အမျိုးသား
ရသော မြေသည် ကျဉ်းမြောင်း သော ကြောင့်၊
လေရှမြို့ကိုစစ်တိုက်၍ တိုက်ယူ ထုပ်ကြသဖြင့် နေရာ
ချကြ၏။ လေရှမြို့ကို၊ အမျိုး၏အဘဒန်ကိုအစွဲပြု၍၊
၄၈ ဒန်မြို့ ဟူသော အမည် ဖြင့် မှည့်ကြ၏။- ဤရွေ့
ကား၊ မြို့ရွာပါလျက်၊ ဒန်အမျိုးသားတို့သည်အ
ဆွေအမျိုးအလိုက်ခံရသောအမွေတည်း။
၄၉ ထိုသို့ဣသရေလ အမျိုးသားတို့သည်၊ မြေတ
ပြင်လုံးကို အပိုင်းအခြားနှင့်တကွ ဝေဖန်၍ အ
မွေခံပြီးမှ၊ နုန်၏သားယောရှုအားအမွေမြေကို
၅၀ ပေးကြ၏။- သူတောင်းသောမြို့၊ ဧဖရိမ်တောင်
ပေါ်မှာတိမနသေရမြို့ကို၊ ထာဝရဘုရားအမိန့်
တော် အတိုင်း ပေးသဖြင့်၊ သူသည် မြို့ကိုတည်
၅၁ ထောင်၍ နေလေ၏။- ဤရွေ့ကား၊ ယဇ်ပုရော
ဟိတ်ဧလာဇာ၊ နုန်၏သားယောရှု၊ ဣသရေလ
အမျိုးသားတို့တွင်အဆွေအမျိုးသူကြီးတို့သည်၊
ရှိလောမြို့မှာထာဝရဘုရားရှေ့၊ ပရိသတ်စည်း
ဝေးရာတဲတော်တံခါးနား၌ဝေပေးသောအမွေ
ခံစရာမြေ အသီးအသီး ပေတည်း။ ဤရွေ့ကား၊
ပြည်ကိုဝေဖန်သောအမှုပြီးလေ၏။

၂၀

၁ တဖန် ထာဝရဘုရား သည် ယောရှုကို ခေါ်
၂ တော်မူ၍၊-သင်သည်ဣသရေလအမျိုးသားတို့
အား ဆင့်ဆိုရမည်မှာ၊ ငါသည်မောရှေအားဖြင့်
၃ မှာထားသည်အတိုင်း၊-လူအသက်ကိုသတ်မည်
ထု အကြံ မရှိဘဲ၊ အမှတ်တမဲ့ သတ်မိသောသူ
သည်ပြေး၍ ခိုရာမြို့တို့ကိုရွေးထားကြလော့။
သေစားသေစေသော သူလက်နှင့်လွတ်၍ ခိုရာ
၄ မြို့ဖြစ်ရသတည်း။- ထိုမြို့တစုံတမြို့သို့ပြေးသော
သူသည်၊ မြို့တံခါးဝ၌ရပ်၍၊ ထိုမြို့၌အသက်ကြီး

လူထိုအားမိမိအမှုကို ကြားပြောသောအခါ၊ သူ
တို့သည် မြို့ထဲသို့ ခေါ်၍၊ သူတို့ထံမှာ နေရာချရ
၅ ကြမည်။– သေစား သေစေသောသူသည် လိုက်
သောလျှင်၊ သူလက်သို့သတ်မိသောသူကိုမအပ်ရ။
အကြောင်းမူကား၊ ထိုသူသည် မိမိအိမ်နီးချင်းကိုအ
၆ မုန်းမထားဘဲ၊ အမှတ်တမဲ့သတ်မိ၏။–ထိုသူသည်
ပရိသတ် ရှေ့သို့ ရောက်၍ တရားစီရင်ခြင်း ကို
ခံရသော်၎င်း၊ ထိုကာလ ယဇ်ပုရောဟိတ် မင်း
မသေမှီသော်၎င်း၊ ထိုမြို့၌နေရမည်။ ထိုနောက်မှ
ပြန်လာ၍၊ အထက် ပြေးရ သောမြို့၊ မိမိနေရင်း
အိမ်၌ နေရသော အခွင့် ရှိရမည်ဟု မိန့် တော်မူ
၇ သည်အတိုင်း။–သူတို့သည် ဂါလိလဲပြည် ...သ
လီတောင်ပေါ်မှာကေဒေရှမြို့၊ဧဖရိမ်တောင်ပေါ်
မှာ ရှေခင် မြို့၊ ယုဒ တောင် ပေါ် မှာ ဟေ ဗြုန် မြို့
တည်းဟူ သော ကိ ရ ယ သာ ဘ မြို့တို့ ကို၎င်း၊–
၈ ယော် ဒန်မြစ် တဖက်၊ ယေရိ ခေါမြို့ အရှေ့မှာရု
ဗင်ခရိုင်၊ တောလွင်ပြင်၌ ဗေဇာမြို့၊ ဂဒ်ခရိုင်၊ဂိ
လဒ်ပြည်၌ရာမုတ်မြို့၊မနာရှေခရိုင်၊ဗာရှန်ပြည်
၉ ၌ဂေါလန်မြို့တို့ကို၎င်း ရွေးထားကြ၏။– ဤမြို့တို့
ကား၊ ဣသရေလအမျိုးသားဖြစ်စေ၊သူတို့တွင်
တည်းခိုသော တပါး အမျိုးသားဖြစ်စေ၊ အမှတ်
တမဲ့လူအသက်ကိုသတ်မိသောသူသည်၊ ငါသေစား
သေစေသော သူလက် နှင့်လွတ်၍၊ပရိသတ်ရှေ့
သို့မရောက် မှီ တိုင်အောင်၊ပြေးရသော အခွင့်ရှိ
စေခြင်းငှါရွေးထားသောမြို့ဖြစ်သတည်း။

၂၁

၁ ထိုအခါ လေဝိသားအဆွေအမျိုးသူကြီးတို့သည်၊ ယဇ်
ပုရောဟိတ်ဧလာဇာ၊နုန်၏သားယောရှု၊ဣသ
ရေလအမျိုးတို့တွင် အဆွေအမျိုးသူကြီးတို့ထံ
၂ သို့ချဉ်းကပ်၍၊– အကျွန်ုပ်တို့နေစရာဘို့မြို့တို့ကို
၎င်း၊ တိရိစ္ဆာန် များတို့ မြို့နယ် တို့ကို ၎င်ပေးစေ
ခြင်းငှါ၊ ထာဝရဘုရားသည် မောရှေ အား ဖြင့်
မှာထားတော်မူပြီဟု၊ ခါနာန်ပြည်၊ ရှိလောမြို့၌
၃ ပြော ဆို ကြလျှင်၊– ဣ သ ရေလ အမျိုး သားတို့
သည် ထာဝရ ဘုရား မှာထား တော် မူ သည်အ
တိုင်း၊ မိမိတို့ အမွေခံရ သော မြေထဲက၊ မြို့နှင့်မြို့
၄ နယ်တို့ကို ပေး ကြ၏။– စာ ရေးတံ ပြု၍၊ ကော
ဟတ်အဆွေအမျိုးတို့သည်အမွေခံရာတွင်၊လေ
ဝိသားယဇ်ပုရောဟိတ်အာရုန်၏ သားမြေးတို့
သည်စာရေးတံ ပြု သော အားဖြင့်၊ ယုဒခရိုင်၊ရှိ
မောင်ခရိုင်၊ ဗင်္ယာမိန်ခရိုင်ထဲက ဆယ်သုံးမြို့ကို
၅ ရကြ၏။– ကြွင်းသော ကောဟတ်သားတို့သည်
ဧဖရိမ်ခရိုင်၊ ဒန်ခရိုင်၊ မနာရှေ ခရိုင် ဝက်ထဲက
၆ ဆယ်မြို့ကိုရကြ၏။–ဂေရရှုံသားတို့သည်စာရေး
တံပြုသောအားဖြင့်၊ဣသခါခရိုင်၊အာရှာခရိုင်၊
နဿလိ ခရိုင်၊ ဗာရှန် ပြည်၌ မနာရှေ ခရိုင်ဝက်
၇ ထဲက၊ ဆယ်သုံးမြို့ကိုရကြ၏။– မေရာရိသားတို့
သည်အဆွေအမျိုးအလိုက်၊ရုဗင်ခရိုင်၊ဂဒ်ခရိုင်၊
ဇာဗုလုန်ခရိုင်ထဲက၊ ဆယ် နှစ်မြို့ကို ရကြ၏။–
၈ ထာဝရဘုရားသည် မောရှေအားဖြင့် မှာထား
တော်မူသည်အတိုင်း၊ဣသရေလအမျိုးသားတို့
သည်စာရေးတံပြု၍၊ ထိုမြို့တို့ကိုမြို့နယ်နှင့်တကွ
လေဝိသားတို့အားပေးကြ၏။
၉ ယုဒ အမျိုးသားခရိုင်၊ရှိမောင် အမျိုးသား ခ
၁၀ ရိုင် ထဲက ပေး၍၊ လေဝိသား ဖြစ် သော ကော
ဟတ်အဆွေအမျိုး၊ အာရုန်၏သားမြေးတို့သည်၊
ပဌမ စာရေးတံ အားဖြင့်ရသောမြို့တို့၏ အမည်
၁၁ များဟူမူကား၊– ယုဒခရိုင်၊ တောင်ကြား၌ဟေ
ဗြုန်မြို့တည်းဟူသော၊ အာနက၏အဘ အာဘ၏
၁၂ သော မြို့ကို မြို့ နယ် နှင့် တကွ ပေးကြ၏။– ထိုရာ
တွင်၊ မြို့နှင့်ဆိုင်သောလယ်များ၊ ရွာများတို့ကို
ယေဖုန္နာ၏သား ကာလက် အားအပိုင် ပေးကြ
၁၃ ၏၊–လူအသက်ကိုသတ်မိသောသူမှီခိုရာမြို့ဖြစ်
စေခြင်းငှါ၊ဟေဗြုန်မြို့ကိုမြို့နယ်နှင့်တကွ၊ယဇ်
ပုရောဟိတ်အာရုန်၏ သားမြေးတို့အားပေးကြ
၁၄ ၏၊– ထိုမှတပါး၊ လိဗနမြို့နှင့် မြို့နယ်၊ ယတ္တိရမြို့
၁၅ နှင့်မြို့ နယ်၊ ဧရှတေမော မြို့နှင့် မြို့နယ်၊– ဟော
၁၆ လုန်မြို့နှင့်မြို့နယ်၊ဒေဗိရမြို့နှင့်မြို့နယ်၊–အဣနမြို့
နှင့် မြို့နယ်၊ ယုတ္တာမြို့နှင့် မြို့နယ်၊ ဗက်ရှေမက်မြို့
နှင့်မြို့နယ် တည်းဟူသော၊ ထိုခရိုင် နှစ် ခရိုင်ထဲ
၁၇ ကကိုးမြို့တို့ကို၎င်း၊–ဗင်္ယာမိန်ခရိုင်ထဲကဂိဗောင်
၁၈ မြို့နှင့်မြို့နယ်၊ဂေဗမြို့နှင့်မြို့နယ်၊– အာနသုတ်မြို့
နှင့်မြို့ နယ်၊ အာလမုန် မြို့ နှင့် မြို့နယ် တည်း ဟူ
၁၉ သော လေး မြို့ တို့ကို ၎င် ပေး ကြ၏။– အာ ရုန်၏
သားမြေး ယဇ်ပုရောဟိတ် တို့ ရ သောမြို့ပေါင်း
ကား၊ မြို့နယ်ပါသောမြို့ဆယ်သုံးမြို့ရှိသတည်း။
၂၀ ကြွင်းသောကောဟတ်သားအဆွေအမျိုးဖြစ်
သောလေဝိသားတို့သည်၊ စာရေးတံပြု၍ ဧဖရိမ်
၂၀ ခရိုင်ထဲကရသည်အတိုင်း၊– လူအသက်ကိုသတ်
မိ သော သူ မှီ ခို ရာ မြို့ ဖြစ် စေ ခြင်း ငှါ၊ ဧဖရိမ်
တောင်ပေါ်မှာ ရှေခင်မြို့ကိုမြို့နယ် နှင့်တကွပေး
၂၂ ကြ၏၊– ထိုမှတပါး၊ ဂေဇာ မြို့နှင့် မြို့နယ်၊ ဗေသ
ဟိရုန်မြို့နှင့်မြို့နယ်၊ဗေဟောရုန်မြို့နှင့်မြို့နယ်တည်း
၂၃ ဟူသောလေးမြို့တို့ကို၎င်း၊– ဒန်ခရိုင်ထဲကဧလ

၂၄ ဧလတေကမြို့နှင့်မြို့နယ်၊ ဂိဗ္ဗသုန်မြို့နှင့်မြို့နယ်၊-အာဇ
လုန်မြို့နှင့်မြို့နယ်၊ဂါသရိမ္မုန်မြို့နှင့်မြို့နယ်
၂၅ တည်းဟူသော၊လေးမြို့တို့ကိုငှဲ၊-မနာရှေခမိုင်
ဝက်ထဲကတာနက်မြို့နှင့်မြို့နယ်၊ ဂါသရိမ္မုန်မြို့
နှင့်မြို့နယ်တည်း ဟူသော၊ နှစ်မြို့တို့ကိုငှဲ ပေး
၂၆ ကြ၏။-ကြွင်းသော ကောဓတ်သား အဆွေအ
မျိုး တို့ ထည့်ရသော မြို့နယ် နှင့် တကွ မြို့ပေါင်း
ကား၊ဆယ်မြို့တည်း။

၂၇ လေဝိ အဆွေ အမျိုး၊ ဂေရရှုံ သား တို့ အား
ထည့်၊ မနာရှေခမိုင်ဝက်ထဲက၊ လူ အသက်ကို
သတ်မိသောသူမှိခိုရာမြို့၊ ဗာရှန်ပြည်၌ဂေါလန်
မြို့နှင့်မြို့နယ်၊ ဗေရှတေရမြို့နှင့်မြို့နယ်တည်းဟူ
၂၈ သော၊ နှစ်မြို့ တို့ကိုငှဲ၊- ဣသခါခမိုင်ထဲက ကိ
၂၉ ရှုန်မြို့နှင့်မြို့နယ်၊ ဒါဗရေမြို့နှင့် မြို့နယ်၊- ယာ
ရုတ်မြို့နှင့်မြို့နယ်၊ ဧန်ဂန္နိမ်မြို့နှင့် မြို့နယ်တည်းဟူ
၃၀ သော၊လေးမြို့တို့ကိုငှဲ၊- အာရှာခမိုင်ထဲကမိရှ
၃၁ လမြို့နှင့်မြို့နယ်၊အာဗဒုန်မြို့နှင့်မြို့နယ်၊-ဟေလ
ကတ်မြို့နှင့်မြို့နယ်၊ရဟောဘမြို့နှင့်မြို့နယ်တည်း
၃၂ ဟူသော၊ လေးမြို့တို့ကို ငှဲ၊- နဿလိ ခမိုင်ထဲ
က၊လူအသက်ကို သတ်မိ သော သူမှိခိုရာမြို့၊ဂါ
လိလဲပြည်၌ ကေဒေရှမြို့နှင့်မြို့နယ်၊ ဟမ္မုတ်ဒေါ်မြို့
နှင့်မြို့နယ်၊ကာတန်မြို့နှင့်မြို့နယ်တည်းဟူသော၊
၃၃ သုံးမြို့တို့ကိုငှဲပေးကြ၏။-ဂေရရှုံသားတို့ထည့်၊
အဆွေအမျိုးအလိုက်ရသောမြို့နယ် နှင့်တကွမြို့
ပေါင်းကား၊ဆယ်သုံးမြို့တည်း။

၃၄ ကြွင်းသောလေဝိသား၊မေရာရိအဆွေအမျိုး
တို့အား ဇာဗုလုန် ခမိုင်ထဲက ယောကနံ မြို့ နှင့်
၃၅ မြို့နယ်၊ကာတမြို့နှင့်မြို့နယ်၊-ဒိမနမြို့နှင့်မြို့နယ်၊
နဟာလာလမြို့နှင့်မြို့နယ်တည်းဟူသော၊လေး
၃၆ မြို့ တို့ကို ငှဲ၊- ရုဗင် ခမိုင် ထဲ က လူ အသက်ကို
သတ် မိ သော သူမှိခိုရာမြို့၊ဗေဇာမြို့နှင့်
၃၇ မြို့နယ်၊ ယဟာဇ မြို့နှင့် မြို့နယ်၊- ကေဒမုတ် မြို့
နှင့်မြို့နယ်၊မေဖတ်မြို့နှင့်မြို့နယ်တည်းဟူသော၊
၃၈ လေးမြို့တို့ကိုငှဲ၊-ဂဒ်ခမိုင်ထဲက၊လူအသက်ကို
သတ်မိ သော သူမှိခိုရာမြို့၊ဂိလဒ်ပြည်၌ ရာမုတ်
၃၉ မြို့နှင့် မြို့နယ်၊ မဟာနိမ် မြို့နှင့်မြို့နယ်၊- ဟေရှ
ဘုန်မြို့နှင့် မြို့နယ်၊ ယာဇာ မြို့နှင့် မြို့နယ် တည်း
၄၀ ဟူ သော၊ လေး မြို့တို့ ကို ငှဲ ပေးကြ၏။- ကြွင်း
သောလေဝိအဆွေအမျိုး၊ မေရာရိသားတို့သည်
စာရေးတံပြု၍၊ အဆွေ အမျိုးအလိုက်ရသောမြို့
နယ်နှင့်တကွမြို့ပေါင်းကား၊ဆယ်နှစ်မြို့တည်း။-
၄၁ ဣသရေလ အမျိုးသားတို့ ပိုင်နိုင်ငံအဝင်၊ လေဝိ
သား နေသော မြို့ပေါင်း ကား၊ မြို့နယ်နှင့် တကွ
၄၂ လေးဆယ် ရှစ်မြို့တည်း။- ထိုမြို့သမျှတို့သည်
ပတ်ဝန်းကျင်နယ် နှင့်ပြည့်စုံလျက် ရှိသတည်း။
၄၃ ထာဝရဘုရားကလည်း၊ ငါပေးမည်ဟု၊ ဘိုး
ဘေးတို့အား ကျိန်ဆိုတော်မူသော ပြည်ရှိသမျှ
ကို၊ ဣသရေလ အမျိုးသားတို့အား ပေးတော်မူ
သဖြင့်၊ သူတို့သည် ပိုင်း၍ နေရာကျကြ၏။-
၄၄ ဘိုးဘေးတို့အားကျိန်ဆိုတော်မူသမျှအတိုင်း၊
ပတ်ဝန်းကျင် အရပ်တို့၌ ငြိမ်ဝပ်ရာ အခွင့်ကို
ပေးတော်မူသဖြင့်၊ သူတို့ရှေ့မှာ အထက်ရန်သူ
မျှမရပ်နိုင်၊ရန်သူအပေါင်းတို့ကိုသူတို့လက်သို့
၄၅ အပ်တော်မူ၏။- ထာဝရ ဘုရားသည်၊ ဣသရေ
လ အမျိုး အမှု မိန့်တော် မူ သော၊ ကောင်းကျိုး
တစုံ တပါးမျှ မလျော့၊ ရှိသမျှ တို့ သည် ပြည့်စုံ
ကြ၏။

၂၂

၁ ထိုနောက် ယောရှုသည် ရုဗင် အမျိုး၊ ဂဒ်အမျိုး၊
၂ မနာရှေ အမျိုး တဝက် တို့ ကို ခေါ်၍- ထာဝရ
ဘုရား၏ကျွန်မောရှေမှာထားသမျှအတိုင်း၊ သင်
တို့သည်ပြု၍၊ ငါမှာထားသမျှ သော စကားကို
၃ နားထောင်ကြပြီ။- ယနေ့ တိုင်အောင်ကြာ
မြင့်စွာ သော ကာလ ပတ်လုံး၊ သင် တို့သည် ညီ
အစ်ကိုများကိုမစွန့်ပစ်ဘဲနေ၍၊သင်တို့ဘုရားသခင်
ထာဝရ ဘုရား၏ ပညတ် မှာထား တော် မူသမျှ ကို
၄ စောင့်ရှောက်ကြပြီ။- ယခုမှာ သင်တို့၏ ဘုရား
သခင်ထာဝရဘုရားဂတိတော်ရှိသည်အတိုင်း၊
ညီအစ်ကိုတို့အား ငြိမ်ဝပ်ခြင်း အခွင့်ကို ပေး
တော်မူသောကြောင့်၊ သင်တို့ပြန်၍ကိုယ်နေရာ
အိမ် တို့ ငှင်၊ ယော်ဒန် မြစ် တဖက် ၌ ထာဝရ
ဘုရား၏ကျွန် မောရှေပေးသည်အတိုင်း၊ ကိုယ်
၅ ပိုင်သော မြေသို့ငှင် သွားကြလော့။- သို့ရာတွင်
ထာဝရ ဘုရား၏ ကျွန် မောရှေ မှာ ထား သော
ပညတ် တရားအတိုင်း ကျင့်၍၊ သင်တို့၏ဘုရား
သခင် ထာဝရဘုရားကို ချစ်နှစ်သက်ခြင်း၊ ခပ်သိမ်းသော
လမ်းတော် အလုံးစုံ တို့၌ လိုက် သွား
ခြင်း၊ ပညတ် တော် တို့ ကို စောင့် ရှောက် ခြင်း၊
ကိုယ် တော် ၌ ဆည်းကပ် ခြင်း၊ အမှု တော် ကို
ဆောင်ရွက်ခြင်း ငှါ ကြိုးစား၍ သတိပြုကြလော့
၆ ဟု မှာ ထား လျက်၊- ကောင်း ကြီး ပေး၍ စွတ်
လိုက် လေ၏။ သူ တို့သည် ကိုယ် နေရာ အိမ်သို့
၇ သွားကြ၏။-မနာရှေအမျိုးတဝက်သား၊မောရှေ
သည်ဗာရှန်ပြည်၌မြေကို ပေးနှင့်ပြီ။ အမျိုး၊ တ

ဝက်ထား၊ ယောရှုသည်ယော်ဒန်မြစ်အနောက်
ထက်၌သူတို့ညီအစ်ကိုများနှင့်အတူမြေကိုပေး
၈ ၏။-ယောရှုကလည်း၊ သင်တို့သည်အလွန်ဥစ္စာ
ရတတ်၍များစွာသောတိရိစ္ဆာန်၊ ရွှေ၊ ငွေ၊ ကြေး
ဝါ၊ သံ၊ အဝတ်တန်ဆာ များ တို့ကို ယူ ဆောင်
လျက်၊ သင်တို့နေရာအိမ်သို့ပြန်သွားကြလော့။
ရန်သူ တို့၌ လု ယူ၍ ရသော ဥစ္စာ ကို သင်တို့ ညီ
အစ်ကိုများ၌ဝေဖန်ကြလော့ဟုမှာထားလျက်၊
ကောင်းကြီးပေး၍၊ သူတို့ နေရာအိမ်သို့ လွှတ်
၉ လိုက်လေ၏။-ထာဝရဘုရားသည်မောရှေအား
ခြင့်မိန့်တော်မူသည်အတိုင်း၊ ရုဗင်အမျိုး၊ ဂဒ်အ
မျိုး၊ မနာရှေအမျိုး တဝက် တို့ သည် ပိုင် ထိုက်
သောမြေ၊ ဂိလဒ်ပြည်သို့သွားခြင်းငှါ၊ ဣသရေ
လ အမျိုး သား ရှိ ရာ ခါနာန် ပြည်၊ ရှိလော မြို့မှ
ထွက်သွားကြ၏။

၁၀ ခါနာန်ပြည်၊ ယော်ဒန်မြစ်နားသို့ရောက်သော
အခါ၊ ရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေအမျိုးတ
ဝက် တို့ သည် ယော်ဒန်မြစ်နားမှာ ထင် ရှားစွာ
၁၁ သော ယဇ်ပလ္လင်ကြီးကို တည်ကြ၏။- ထိုသို့ရု
ဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေအမျိုးတဝက်တို့
သည်ခါနာန် ပြည်တဖက်၊ ယော်ဒန် မြစ်နား၊ ဣ
သရေလ အမျိုးသားကူးရာအရပ်၌ယဇ်ပလ္လင်
ကိုတည် ကြ ပြီဟု၊ ဣသရေလ အမျိုး သား တို့
၁၂ သည်သိတင်းကြားကြ၏။- ထိုသိတင်းကိုကြား
သောအခါ၊ ဣသရေလအမျိုးသားပရိသတ်အ
ပေါင်းတို့သည် စစ်ချီခြင်းငှါ၊ ရှိလောမြို့၌စည်း
၁၃ ဝေးကြ၏။- ဣသ ရေလ အမျိုးသားတို့သည်၊
၁၄ ယဇ်ပရောဟိတ်ဧလာဇာ သား ဖိနဟတ်နှင့်တ
ကွ၊ ဣသရေလ အမျိုး အသီးအသီးတို့ အထဲက
ရွေးကောက်၍၊ လူတထောင်ကိုအုပ်သောအဆွေ
အမျိုးသူကြီးဆယ်ပါးတို့ကိုရုဗင်အမျိုး၊ ဂဒ်အ
မျိုး၊ မနာရှေအမျိုးတဝက်ရှိရာဂိလဒ်ပြည်သို့စေ
၁၅ လွှတ်ကြ၏။- ထိုမင်းတို့သည် ရုဗင်အမျိုး၊ ဂဒ်
အမျိုး၊ မနာရှေအမျိုးတဝက်ရှိရာဂိလဒ်ပြည်သို့
၁၆ ရောက်၍၊-ထာဝရဘုရား၏ပရိသတ်အပေါင်း
တို့ မှာလိုက်သည် ကား၊ သင် တို့ သည် ထာဝရ
ဘုရားကိုယနေ့ ဝန်ကန်၍၊ ယဇ်ပလ္လင်ကိုတည်
သဖြင့်၊ ထာဝရဘုရား နောက်တော်သို့မလိုက်၊
ယနေ့ လွှဲသွားခြင်းငှါ၊ ဣသရေလအမျိုး၏ဘုရား
သခင်ကိုပြစ်မှားသောအပြစ်ကား၊ အဘယ်သို့
၁၇ နည်း။-သင်တို့သည်ထာဝရဘုရားနောက်တော်
သို့မလိုက်၊ လွှဲသွားရမည်အကြောင်း၊ ပေဂုရ်အ

ပြစ်သည်ငါတို့အဖို့မလောက်သလော။ ထာဝရ
ဘုရား ၏ ပရိသတ် တော်၌ ဘေး ကြီး ရောက်
သော်လည်း၊ ယနေ့တိုင်အောင်ထိုအပြစ်မရှင်း
၁၈ သင်းသေး။- သင်တို့သည် ထာဝရ ဘုရားကိုယ
နေ့ ဝန် ကန်၍၊ နက် ဖန် နေ့ ဣ သ ရေလ အမျိုး
ပရိသတ်အပေါင်းတို့ကို အမျက်ထွက်တော်မူ
၁၉ မည်။-သို့သော်လည်း၊ သင်တို့အပိုင်ရသောမြေ
သည်မစင်ကြယ်လျှင်၊ ထာဝရဘုရား အပိုင်ယူ
တော်မူ၍၊ တဲတော်ရှိရာမြေသို့ ကူးသဖြင့်၊ ငါတို့
နှင့်အတူ အပိုင်ယူကြလော့။ ငါတို့ဘုရားသခင်
ထာဝရဘုရား ၏ ယဇ်ပလ္လင်တော်မှတပါး၊ အ
ခြားသောယဇ်ပလ္လင်ကိုကိုယ်အဖို့တည်၍၊ ထာ
ဝရဘုရားကို မဝန်ကန်ကြနှင့်။ ငါတို့ကိုလည်း
၂၀ မဝန်ကန်ကြနှင့်။-ဇေရသားအာခန်သည်ကျိန်
အပ်သောအရာ၌ပြစ်မှား၍၊ အမျက်တော်သည်
ဣသရေလ အမျိုးပရိသတ်အပေါင်းတို့အပေါ်
မှာရောက်သည် မဟုတ်လော။ ထိုသူသည် ပြစ်
မှားသောအပြစ်ကြောင့်၊ တယောက်တည်းသာ
သေရသည်မဟုတ်ဟုဆိုကြ၏။

၂၁ ထိုအခါရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေအမျိုး၊
တဝက် တို့ သည် ဣသရေလ အမျိုး တွင် လူ တ
ထောင်စီအုပ်သောအဆွေအမျိုးတို့အားပြန်ပြော
၂၂ လေ သည် မှာ၊- ဖြတ်စွာ ဘုရား သခင် ထာဝရ
ဘုရား၊ ဖြတ်စွာဘုရားသခင်ထာဝရဘုရားသည်
ကိုယ်တော်တိုင်သိတော်မူ၏။ ဣသရေလအမျိုး
လည်းကိုယ်တိုင်သိရလိမ့်မည်။ ဝန်ကန်မည်အ
ကြံ၊ ထာဝရဘုရားကို ပြစ်မှား မည် အကြံရှိ၍၊
ထာဝရ ဘုရား နောက် တော် သို့ မလိုက်ဘဲ လွှဲ
သွားခြင်းငှါ၊ ငါတို့ သည် ယဇ်ပလ္လင်ကို တည်
၂၃ သည်မှန်လျှင်၊ ယနေ့ဘေးမလွတ်ပါစေနှင့်။-ထို
ပလ္လင်ပေါ်မှာမီးရှို့ရာ ယဇ်၊ ဘောဇဉ်ပူဇော်
သက္ကာ၊ မိဿဟာယပူဇော်သက္ကာကိုပူဇော်မည်
အကြံရှိလျှင်လည်း၊ ထာဝရဘုရားသည်ကိုယ်
၂၄ တော်တိုင်စစ်ကြောတော်မူပါစေ။-နောင်ကာလ
၌ သင်တို့သားမြေးတို့က၊ အို ရုဗင်အမျိုးသား၊
ဂဒ်အမျိုးသားတို့၊ သင်တို့သည်ဣသရေလအမျိုး
၏ ဘုရားသခင် ထာဝရ ဘုရား နှင့် အဘယ် သို့
၂၅ ဆိုင်ကြသနည်း။- ထာဝရဘုရားသည်ငါတို့နှင့်
သင်တို့ စပ်ကြား၌ ပိုင်းခြားလျက်ယော်ဒန် မြစ်
ကိုထားတော်မူပြီ။ သင်တို့သည် ထာဝရဘုရား
နှင့် အလျှင်း မဆိုင် ကြဟု၊ ငါတို့ သားမြေး တို့
အား ပြောဆိုသဖြင့်၊ ငါတို့သားမြေးတို့သည်၊

ထာဝရဘုရားကို မကြောက်ရွံ့ဘဲ နေစေမည်အ
ကြောင်း၊ သင်တို့ သားမြေးတို့သည် ပြုကြမည်
၂၆ ထုံးရိုးရှိမည်၊ ဤအမှုကို ပြုပြီမထုတ်သေး- ထို
ဖြစ်၍၊ ငါတို့သည်ယဇ်ပလ္လင်ကို တည်ခြင်းငှါ
ရွှင်ကြကုန်စို့ဟု ဆိုကြသောအခါ၊ မီးရှို့ရာယဇ်
အစရှိသော ယဇ်ရှိုးကိုပူဇော်မည်အကြံရှိသည်
၂၇ မထုတ်- ငါတို့သည် မီးရှို့ရာ ယဇ်အစရှိသော
ယဇ်ရှိုး၊ မိဿဟာယပူဇော်သက္ကာ အမျိုးမျိုး
ကိုပြုသဖြင့်၊ ထာဝရဘုရား အမှုကို ရှေ့တော်၌
ဆောင်ရွက်ခြင်းငှါရင်၊ နောင်ကာလ၌ သင်တို့
သားမြေးတို့က၊ သင်တို့သည်ထာဝရဘုရားနှင့်
ဆက်ဆိုင်းမဆိုင်ကြဟု၊ ငါတို့သားမြေးတို့အားမ
ပြောစေခြင်းငှါငှင်၊ ဤယဇ်ပလ္လင်သည် ငါတို့
နှင့်သင်တို့စပ်ကြား၊ ငါတို့သားမြေးနှင့် သင်တို့
သားမြေး စပ်ကြားမှာ သက်သေ ဖြစ်စေခြင်းငှါ
၂၈ တည်ကြပါပြီ- နောင်ကာလ၌ ထိုသူတို့သည်၊ ငါ
တို့နှင့် ငါတို့ သားမြေး တို့ အား ထိုသို့ ပြော ဆို
လျှင်၊ ငါတို့က၊ ငါတို့အဘတို့သည်မီးရှို့ရာယဇ်
အစရှိသော ယဇ်ရှိုးကိုပူဇော်ခြင်းငှါ မထုတ်၊
ငါတို့နှင့် သင်တို့စပ် ကြား မှာ သက်သေ ဖြစ်စေ
ခြင်းငှါ တပိုသောထာဝရဘုရား၏ ယဇ်ပလ္လင်
ပုံကိုကြည့်ကြလော့ဟုပြန်ပြောစရာအကြောင်း
၂၉ ရှိစေခြင်းငှါ၊ငါတို့သည်တိုင်ပင်ကြပြီ- ထဲတော်
ရှေ့၌ရှိသောငါတို့ဘုရားသခင်ထာဝရဘုရား၏
ယဇ်ပလ္လင်တော် မှ တပါး၊ အခြားသော ယဇ်
ပလ္လင်ကို တည်၍၊ မီးရှို့ရာ ယဇ် အစ ရှိသော
ယဇ်ရှိုး၊ ဘောဇဉ်ပူဇော်သက္ကာ ရှိုးကိုပြုသ
ဖြင့်၊ ထာဝရ ဘုရားကို ပုန်ကန်၍ နောက်တော်
သို့ လိုက်၊ ထွဲ သွားခြင်းအမှုသည်ငါတို့နှင့်ဝေး
ပါစေသောဟုပြန်ပြောကြ၏။
၃၀ ယဇ်ပရောဟိတ်ဖိနေဟတ်နှင့်ပရိသတ်မင်း
များ၊ ဣသရေလ အဆွေအမျိုး သူ ထောင်မင်း ဆိုင်
သောအကဲအမှူးများတို့သည်၊ ရုဗင်အမျိုး ဂဒ်
အမျိုး၊ မနာရှေအမျိုးသားတို့ပြောသောစကား
၃၁ ကိုကြားရသော အခါ၊ အားရကြ၏- ယဇ်ပ
ရောဟိတ် ဧလာ ဇာ သား ဖိနေဟတ် ကလည်း၊
သင်တို့သည် ထာဝရ ဘုရားကို မပြစ်မှား သော
ကြောင့်၊ထာဝရဘုရားသည် ငါတို့တွင်ရှိတော်
မူကြောင်းကို ယနေ့ ငါတို့ သိမြင်ကြ၏၊ သင်တို့
သည်ဣသရေလအမျိုးသားတို့ကိုထာဝရဘုရား
လက်တော်မှ ကယ်နှုတ်ကြပြီဟု၊ရုဗင်အ
မျိုး၊ဂဒ်အမျိုး၊မနာရှေအမျိုးသားတို့အားပြော
၃၂ ဆိုကြ၏။-ထိုအခါ ယဇ်ပရောဟိတ် ဧလာဇာ
သားဖိနေဟတ်နှင့်မင်းများတို့သည် ရုဗင်အမျိုး၊
ဂဒ်အမျိုး သားတို့နေရာ ဂိလဒ်ပြည်မှ၊ ဣသရေ
လအမျိုးသားနေရာ ခါနာန်ပြည်သို့ ပြန်လာ၍၊
၃၃ သိတင်းကြား ပြော ကြ ဖြင့်၊-ဣသရေလအမျိုး
သားတို့သည် ဝမ်းမြောက် ခြင်း ရှိ၍၊ ဘုရားသ
ခင်၏ဂုဏ်ကျေးဇူးတော်ကိုချီးမွမ်းကြ၏၊ နောက်တ
ဖန်ရုဗင်အမျိုး၊ ဂဒ်အမျိုးသားတို့နေသောပြည်
ကိုလုပ်ကြံဖို့ သော ငှါ စစ် ချီ မည်ဟု အကြံမရှိ
၃၄ ကြ၊-ရုဗင်အမျိုး၊ ဂဒ်အမျိုးသားတို့ကလည်း၊
ထာဝရ ဘုရား သည် ဘုရားသခင် ဖြစ်တော် မူ
ကြောင်းကို၊ ဤယဇ်ပလ္လင်သည်ငါတို့စပ်ကြား
မှာသက်သေခံပါစေသောဟု ဆိုလျက်၊ ထိုပလ္လင်
ကိုဧဒအမည်ဖြင့်မှည့်ကြ၏။

## ၂၃

၁ ထာဝရ ဘုရားသည်၊ ပတ်ဝန်းကျင် နေသော
ရန်သူအပေါင်းတို့ထက်မှ၊ ဣသရေလအမျိုးကို
ကယ်နှုတ်၍ ငြိမ်သက်ခြင်းအခွင့်ကိုကြာမြင့်
စွာပေးသောကာလ၊ ထိုအခါ ယောရှုသည်
၂ ရွှံ့သည်အသက်ကြီး၍ အိုမင်းသောအခါ၊-ဣသ
ရေလအမျိုး၊အသက်ကြီးသူ၊အကဲအမှူး၊တရား
သူကြီး၊ အရာရှိသော သူရှုး နှင့် တကွ၊ အမျိုး
သား အပေါင်း တို့ကို ခေါ်ပြီးလျှင်၊ ငါသည် အ
၃ သက်ကြီးရင့်၍ အိုမင်းပြီ။- သင်တို့၏ ဘုရားသ
ခင်ထာဝရ ဘုရားသည် သင်တို့ အတွက်၊ ဤလူ
မျိုး အပေါင်းတို့ ၌ ပြုတော်မူ သမျှကို၊ သင်တို့
သည်သိမြင်ကြပြီ၊ သင်တို့၏ ဘုရားသခင် ထာ
ဝရဘုရားသည်၊ သင်တို့ဘက် ၌ စစ်တိုက်တော်
၄ မူပြီ။- ယော်ဒန် မြစ်မှ စ၍ အနောက် ပင်လယ်
ကြီးတိုင်အောင်၊ ငါပယ်ရှင်းသမျှသော လူမျိုး
တို့နှင့်တကွ၊ ကြွင်းသေးသော ဤလူမျိုးနေသော
ပြည်ကို၊သင်တို့ အမျိုးများ အမွေခံစရာဖို့ စာ
၅ ရေးတံ ချ၍၊ ငါဝေဝန်ပြီ၊ သင်တို့၏ ဘုရားသ
ခင်ထာဝရ ဘုရား ဂတိတော်ရှိသည် အတိုင်း၊
ဤလူမျိုး တို့ ကို နှင် ထုတ် ၍၊ သင် တို့ မမြင် ရ
အောင် သုတ်သင်ပယ်ရှင်းတော်မူသဖြင့်၊သူတို့
၆ ၏မြေကိုသင်တို့သည်အပိုင်ရကြလိမ့်မည်။-ထို့
ဖြစ်၍၊ သင်တို့သည်မောရှေ၏ ပညတ္တိကျမ်းစာ
ထမ်းမှ လက်ျာဘက်၊ လက်ဝဲ ဘက်သို့ မလွှဲဘဲ၊
၇ ပါသမျှအတိုင်းကျင့်စောင့်ခြင်းငှါရင်၊- သင်တို့
တွင်ကြွင်းသေးသော ဤလူမျိုးနှင့် မပေါင်းဖော်၊
သူတို့ဘုရား၏ နာမကိုမြွက်၍ မကျိန်ဆို၊ ဝတ်မ

၈ ပြု၍ မညွတ်ဘဲ၊- ယနေ့တိုင်အောင် ကျင့်သကဲ့
သို့၊သင်တို့၏ဘုရားသခင်ထာဝရဘုရား၌ဆည်း
ကပ်မှီခိုခြင်း၊ငါ့ရင်၊အဆွေခဲ့ရင့်သောစိတ်ရှိကြ
၉ လော့။-အကြောင်းမူကား၊ ကြီးမား၍ ခွန်အား
နှင့် ပြည့်စုံသော လူမျိုးတို့ကို၊ ထာဝရ ဘုရား
သည်သင်တို့ရှေ့မှနှင်ထုတ်တော်မူသဖြင့်၊ယနေ့
တိုင်အောင် သင် တို့ ရှေ့ ၌ အဘယ် သူမျှ မရပ်
၁၀ နိုင်။- သင်တို့ တယောက် သော်လည်း၊ အခြား
သော သူ တ ထောင် ကို ပြေး စေ လိမ့် မည်။ အ
ကြောင်းမူကား၊ သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရား သည်၊ ဂတိ တော် ရှိသည် အတိုင်း၊ သင်
၁၁ တို့အတက်၌ စစ်တိုက် တော်မူ၏။- သို့ဖြစ်၍၊ သင်
တို့ ၏ ဘုရားသခင်ထာဝရဘုရားကိုချစ်ခြင်းငှါ၊
ကိုယ်စိတ်နှစ်လုံးကိုသတိပြုကြလော့။
၁၂ ထိုမှတပါး၊ သင်တို့သည်ရွေ့လျော့၍၊ သင်တို့
တွင် ကျန် ကြွင်း သေး သော၊ ဤ လူ မျိုး တို့ ၌ မှီခို
လျက်၊ထိမ်းမြားပေးစား၍ပေါင်းဖော်ဆက်ဆံ
၁၃ ခြင်း ရှိ လျှင်၊-သင် တို့၏ ဘုရား သခင် ထာ ဝရ
ဘုရားသည်နောက်တဖန် ဤလူမျိုးတို့ကိုသင်တို့
ရှေ့မှ နှင် ထုတ်တော်မမူ။သင်တို့၏ ဘုရားသခင်
ထာဝရဘုရား ပေးတော်မူ၍ ကောင်း မွန်သော၊
ဤပြည်၌ သင် တို့ သည် မ ပျောက် မပျက်မှီ တိုင်
အောင်၊ သူ တို့ သည် သင် တို့ ၌ ကျော့ ကွင်း၊
ထောင်ချောက်၊သင်တို့နံစောင်း၌နှင်တံ၊သင်တို့
မျက် ်၌ ဆူး ဖြစ် ကြ လိမ့် မည် အကြောင်းကို စေ
၁၄ ကန်အမှန်သိမှတ်ကြလော့။-ငါသော်ကား၊မြေ
သားအပေါင်းတို့ သွားရာ လမ်းသို့ ယနေ့ သွား
လုပြီ၊သင်တို့၏ဘုရားသခင်ထာဝရဘုရားသည်
သင်တို့အဖို့ မိန့်တော် မူ သော ကောင်းကျိုးတစုံ
တပါးမျှ မယုတ် မလျော့၊ အကုန် အစင် ပြည့်စုံ
ကြောင်းကို၊ သင်တို့သည် စိတ်နှစ်လုံးထဲမှာသိ
၁၅ ကြ၏။-သင် တို့၏ ဘုရား သခင် ထာဝရ ဘုရား
ဂတိ တော် ရှိ သည် အ တိုင်း၊ ကောင်း ကျိုး အ
ပေါင်း တို့သည် သင်တို့ အပေါ်၌ ရောက် သကဲ့
သို့၊ ထို အဟူ သင် တို့ ၏ ဘုရား သခင် ထာဝရ
ဘုရား ပေး တော်မူ သော၊ ဤကောင်း မွန်သော
ပြည်မှသင်တို့ကိုသုတ်သင်ပယ်ရှင်းတော်မမူမှီ
တိုင်အောင်၊ ထာဝရဘုရားသည်သင်တို့အပေါ်
၌ဘေးဥပါတ် အပေါင်းတို့ကို ရောက်စေတော်မူ
၁၆ မည်။-သင်တို့သည်၊ သင်တို့၏ဘုရားသခင် ထာ
ဝရဘုရား ထားတော် မူသော ပဋိညာဉ် တရား
ကိုပြစ်မှားလျက်၊ အခြားတပါးသောဘုရားတို့
ထံသို့ သွား၍၊ ဦး ညွတ် ဝတ် ပြု လျှင်၊ ထာဝရ
ဘုရားသည်အမျက် ထွက်၍၊ အရင်ပေးတော်မူ
သော၊ဤကောင်းမွန်သောပြည်၌၊သင်တို့သည်
အလျင်အမြန်ပျောက်ပျက်ကြလိမ့်မည်ဟု ဟော
ပြော၏။

၂၄

၁ တဖန် ယောရှု သည် ဣ သ ရေ လ အမျိုး အ
ပေါင်းတို့ကိုရှေခင်မြို့၌စည်းဝေးစေ၍၊ ဣသရေ
လအမျိုးအသက်ကြီးသူ၊ အကဲအမှူး၊ တရားသူ
ကြီး၊ အရာရှိ သော သူတို့ ကို ခေါ်သဖြင့်၊ သူတို့
သည်ဘုရားသခင်ရှေ့တော်သို့ချဉ်းကပ်ကြ၏။-
၂ ထိုအခါယောရှုသည်လူအပေါင်းတို့အားဟော
ပြောသည်မှာ၊ဣသရေလအမျိုး၏ဘုရားသ
ခင်ထာဝရဘုရား မိန့်တော်မူသည်ကား၊ အာဗြ
ဟံနှင့်နာခေါ်တို့၏ အဘ တေရမှစ၍၊ သင်တို့ဘိုး
ဘေးတို့သည် ရှေးကာလ၌ မြစ်ကြီးတဘက်မှာ
နေ၍၊ အခြားတပါးသော ဘုရား တို့ ကို ဝတ်ပြု
၃ ကြ၏။- သင်တို့အဘအာဗြဟံကိုမြစ်ကြီးတဘက်
မှငါခေါ် ပြီးလျှင်၊ ခါနာန် ပြည် အရပ်ရပ်သို့ ပို့
ဆောင်၍၊ သူ၏ အမျိုး အနွယ် ကို များ ပြားစေ
၄ လျက်၊ဣဇာက်ကိုပေး၏။-ဣဇာက်အားလည်း၊
ယာကုပ်နှင့် ဧသောကို ငါပေး၍၊ ဧသော အား
လည်း၊စိရတောင်ကိုအပိုင်ပေး၏။ယာကုပ်နှင့်
သူ၏သားတို့သည်အဲဂုတ္တုပြည်သို့သွားကြ၏။-
၅ မောရှေနှင့်အာရုန်ကို ငါစေလွှတ်၍၊ အဲဂုတ္တု
လူတို့၌ ပြု သည်အတိုင်း၊ အဲဂုတ္တုပြည်ကို ဒဏ်ခတ်
၆ သောနောက်၊ သင်တို့ကိုနှုတ်ဆောင်လေ၏။-ထို
သို့ သင် တို့အဘ များကို အဲဂုတ္တုပြည်မှ ငါနှုတ်
ဆောင်သဖြင့်၊သူတို့သည် ပင်လယ်သို့ရောက်
၍၊ အဲဂုတ္တု လူတို့သည် ရထားနှင့် မြင်းစီးသူရဲ
ပါလျက်၊ ထိုပင်လယ်တိုင်အောင် လိုက်ကြ၏။-
၇ ထာဝရဘုရားကိုအော်ဟစ်သောအခါ၊ သင်တို့
နှင့် အဲဂုတ္တု လူတို့စပ်ကြားမှာ မှောင်မိုက်ကိုငါ
ထား၍၊ သူတို့ကို ပင် လယ် ရေ လွှမ်း မိုး စေ၏။
အဲဂုတ္တုပြည်၌ ငါပြုသောအမှုကို၊သင်တို့သည်
ကိုယ်တိုင်မြင်ကြပြီ။တော၌လည်း၊ကာလကြာ
၈ မြင့်စွာနေရကြ၏။- နောက်တဖန် ယော်ဒန်မြစ်
အရှေ့ဘက်၌နေသောအာမောရိလူတို့ပြည်သို့၊
သင်တို့ကို ငါပို့ဆောင်၍၊ သူတို့သည် စစ်တိုက်
သောအခါ၊ သူတို့ကို သင်တို့ လက်၌ ငါအပ်၍၊
သူတို့မြေကို သင်တို့သည် သိမ်းယူကြ၏။ သူတို့
ကိုသင်တို့ရှေ့မှ ငါသုတ်သင် ပယ်ရှင်းလေ၏။-

၉ မောအပ်ရှင်ဘုရင် ဇိပေါ်၏သား ဗာလက် ထည်
ထ၍၊ ဣသရေလအမျိုးကိုစစ်တိုက်သဖြင့်၊သင်
တို့ကိုကျိန်ဆဲစေခြင်းငှါ၊ ဗောရ၏သား ဗာလမ်
၁၀ ကိုခေါ်သောအခါ၊- ဗာလမ်၏စကားကိုငါနား
မထောင်သော့ကြောင့်၊ သူသည် အထပ်ထပ်
ကောင်းကြီး ပေး၍၊ သူ့ထက်မှ သင်တို့ကို ငါ
ထုတ်ဆွတ်လေ၏။- တဖန် သင်တို့သည် ယော်
ဒန်မြစ်ကိုကူး၍၊ယေရိခေါမြို့သို့ရောက်ကြသော
အခါ၊ ယေရိခေါလူ၊ အာမောရိလူ၊ ဖေရဇိလူ၊
ခါနနိလူ၊ ဟိတ္တိလူ၊ ဂိရဂါရှိလူ၊ ဟိဝိလူ၊ယေဗု
သိလူတို့သည် သင်တို့ကို စစ် တိုက်၍၊ သူတို့ကို
၁၁ သင်တို့လက်၌ ငါအပ်လေ၏။- သင်တို့၌ ထား
နှင့်လေးမပါဘဲ၊ သင်တို့ရှေ့မှာ ပျားတုကို ငါစေ
လွှတ်၍၊ အာမောရိမင်းကြီး နှစ်ပါးကို သင်တို့
၁၃ ရှေ့မှ ငါနှင်ထုတ်လေ၏။- သင်တို့ မလုပ်သော
မြေ၊မတည်သောမြို့တို့ကိုငါပေး၍၊သင်တို့သည်
နေရကြ၏။ကိုယ်တိုင်မစိုက်သောစပျစ်ဥယျာဉ်၊
သံလွင်ဥယျာဉ်တို့ကိုစားရကြသည်ဟု၊ ထာဝရ
ဘုရားအမိန့်တော်ရှိ၏။

၁၄ ထိုမှာထာဝရဘုရားကိုကြောက်ရွံ့၍၊ကြည်
ညိုခြင်း၊ သစ္စာ စောင့်ခြင်းနှင့်တကွ ဝတ်ပြု ကြ
လော့။မြစ်ကြီးတဖက်၌၎င်း၊အဲဂုတ္တုပြည်၌၎င်း၊
ဘိုးဘေးတို့ဝတ်ပြုသောဘုရားများကို ပယ်၍၊
၁၅ ထာဝရ ဘုရား ကိုသာ ဝတ်ပြု ကြ လော့။- သို့မ
ဟုတ်၊ ထာဝရဘုရားအား ဝတ်မပြုကောင်းဟု၊
သင်တို့ထင်လျှင်၊ မြစ်ကြီးတဖက်၌ ဘိုးဘေးတို့
ဝတ် ပြုသော ဘုရား၊ သင်တို့ နေရာ အာ မောရိ
ပြည် သားတို့၏ ဘုရား များတွင်၊ အဘယ်မည်
သောဘုရားတို့အား ဝတ်ပြုမည် အရာကိုယနေ့
ရွေးကြလော့။ငါနှင့်ငါ့အိမ်သားမူကား၊ထာဝ
၁၆ ရဘုရားကိုသာဝတ်ပြုမည်ဟုဆိုလေသော်၊-လူ
များတို့က၊အခြားတပါးသောဘုရားတို့ကိုဝတ်
ပြုခြင်းငှါ၊ထာဝရဘုရားကိုစွန့်သောအမှုသည်
၁၇ အထွန်းပ်တို့နှင့် ဝေးပါစေသော။- ငါတို့ဘုရား
သခင်ထာဝရဘုရားသည်၊ကျွန်ခံနေရာအဲဂုတ္တု
ပြည်မှ အဘတို့နှင့် ငါ တို့ကို နှုတ်ဆောင်၍၊ကြီး
စွာသော နိမိတ် လက္ခဏာ တို့ ကို ငါ တို့ မျက်
မှောက်၌ ပြတော်မူပြီး၊ ငါတို့ သွားလေရာရာ အ
ရပ်၊ရှောက်သွားရာလူမျိုးတို့တွင် စောင့်တော်
၁၈ မူပြီး- ထာဝရဘုရားသည်လည်း၊ ဤပြည်၌နေ
သောသူ၊အာမောရိလူအပေါင်းတို့ကိုငါတို့ရှေ့မှ
နှင်ထုတ်တော်မူပြီ။ ထာဝရဘုရားအားဝတ်ပြု
ပါမည်။ ထိုဘုရားသည် ငါတို့ ဘုရား သခင်ဖြစ်
၁၉ တော် မူ သည်ဟု ပြန် ပြော ကြ၏။- ယောရှု က
လည်း၊ သင်တို့သည်ထာဝရဘုရားအား ဝတ်မ
ပြုနိုင်၊ ထိုဘုရားသည်သန့်ရှင်းသော ဘုရား၊အ
ပြစ်ရှိသည်ဟု ထင်လွယ်သော ဘုရားဖြစ်တော်
မူ၏။ သင်တို့ လွန်ကျူး ပြစ်မှားသော အပြစ်တို့
၂၀ ကိုသည်းခံ တော် မမူ။- သင် တို့ သည် ထာ ဝရ
ဘုရားကို စွန့်၍၊ တကျွန်း တနိုင်ငံ ဘုရားတို့ကို
ဝတ်ပြုလျှင်၊ သင်တို့၌ကျေးဇူး ပြုတော်မူပြီးမှ၊
တဖန်ဒဏ်ခတ်၍ညှဉ်းဆဲဖျက်ဆီးတော်မူမည်ဟု
၂၁ ဆို လျှင်၊- လူ များ တို့ က၊ မဟုတ် ပါ။ ထာ ဝရ
ဘုရားကိုသာဝတ်ပြုပါမည်ဟုပြန်လျှောက်ကြ
၂၂ ၏။- ယော ရှုက ထည်း၊ သင် တို့ သည် ထာ ဝရ
ဘုရားကိုဝတ်ပြုခြင်းငှါ၊ ထိုဘုရားကို ရွေးကြပြီ
ဟု၊ ကိုယ် အမှု၌ ကိုယ်သက်သေခံကြသည်ဟု
ဆို လျှင်၊ သူတို့ က၊ သက် သေ ခံ ကြ ပါ၏ ဟု
၂၃ လျှောက် ကြ သော်၊- ယော ရှုက၊ သို့ဖြစ် လျှင်၊
သင်တို့တွင်ရှိသောတကျွန်းတနိုင်ငံ ဘုရားတို့ကို
ပယ်၍၊ဣသရေလအမျိုး၏ဘုရားသခင်ထာဝရ
ဘုရားဘက်သို့စိတ်နှလုံးကိုညွတ်ကြလော့ဟု
၂၄ ဆိုလေ၏။- လူများတို့ကလည်း၊ ငါတို့ဘုရားသ
ခင်ထာဝရဘုရားကိုဝတ်ပြုပါမည်။ စကားတော်
၂၅ ကို နား ထောင် ပါမည်ဟု ဝန်ခံ ပြီးမှ၊- ယောရှု
သည် ထိုနေ့၌ လူများ တို့နှင့် ပဋိညာဉ် ပြု၍၊ ရှေ
၂၆ ခင်မြို့မှာ စီရင်ထုံး ဖွဲ့ ချက်ကို ထား လေ၏။- ထို
စကားကို ထည်း၊ ဘုရားသခင်၏ ပညတ်ကျမ်းစာ၌
ရေးထား၍၊ ထာဝရ ဘုရား၏ သန့်ရှင်းရာ ဌာန
တော် နား မှာ ရှိ သော၊ သပိတ် ပင် အောက် ၌
၂၇ ကျောက်ကြီးကိုထောင်လျက်၊- ဤကျောက်သည်
ငါတို့အား သက် သေ ဖြစ်ရ လိမ့် မည်။ ထာဝရ
ဘုရားမိန့်တော်မူသောစကား အလုံးစုံကိုကြား
ရပြီ။သို့ဖြစ်၍၊သင်တို့သည်ဘုရားသခင်ကိုငြင်း
ပယ်ခြင်းနှင့် ကင်းလွတ်မည် အကြောင်း၊ သင်
တို့ အား သက် သေ ဖြစ်ရ လိမ့် မည် ဟု၊ လူအ
၂၈ ပေါင်း တို့အား ပြောဆို ပြီးမှ၊- အသီးအသီး မိမိ
တို့အမွေခံရာ အရပ်သို့ ပြန်သွားရသော အခွင့်
ကိုပေးလေ၏။

၂၉ ထိုနောက် မှ၊ ထာ ဝရ ဘုရား ၏ ကျွန်၊ နုန်၏
သား ယော ရှု သည် အသက် တရာ တဆယ် ရှိ
၃၀ သော်၊ အနိစ္စရောက်လေ၏။-ဧဖရိမ်တောင်ပေါ်
ဂါရှကုန်းမြောက်မှာ ရှိသော၊ သူ၏ အမွေခံရာ
တိမ္နသေရမြို့ နယ် မြေ၌ သင်္ဂြိုဟ် ကြ၏။-



 

၃၁ ယောရှုအသက်ထက်ကာလပတ်လုံး၊ ဣသရေလ
အမျိုးသားတို့သည်ထာဝရဘုရားကိုဝတ်ပြုကြ
၏။ထာဝရဘုရားသည်ဣသရေလအမျိုးအဖို့ပြု
တော်မူသမျှတို့ကိုသိ၍၊ ယောရှုမရှိသည်နောက်
အသက်ရှင်သေးသောအသက်ကြီးသူတို့လက်
ထက်၌လည်း၊ထာဝရဘုရားကိုဝတ်ပြုကြ၏။
၃၂ ဣသရေလအမျိုးသားတို့သည် အဲဂုတ္တုပြည်
မှဆောင်ခဲ့သော၊ ယောသပ်၏အရိုးတို့ကို၊ ရှေ
ခင်၏အဘဟာမော်၏သားတို့တွင် ငွေတပိဿာ
နှင့်ယာကုပ်ဝယ်သောရှေခင်မြို့နယ်မြေအကွက်
၌ သင်းဂြိုဟ်ကြ၏။ ထိုမြေအကွက်သည်၊ ယော
၃၃ သပ်သားတို့အမွေမြေဖြစ်သတည်း။- အာရုန်
သား၊ ဧလာဇာ သည် လည်း
အနိစ္စရောက် လေ၏၊သူ၏ သားဖိနေဟတ် အား
လူများပေးခဲ့သောဧဖရိမ်တောင်ပေါ်၊ဖိနေဟတ်
တုန်း၌သင်းဂြိုဟ်ကြ၏။

ယောရှုမှတ်စာပြီး၏။

---

# တရားသူကြီးမှတ်စာ။

## JUDGES.

၁

၁ ယောရှုအနိစ္စရောက်သောနောက်၊ ဣသရေ
လအမျိုးသားတို့က၊အကျွန်ုပ်တို့တွင်အဘယ်
သူသည်ခါနနိလူတို့ရှိရာသို့၊ရှေဦးစွာချီသွားရ
ပါမည်နည်းဟု၊ ထာဝရဘုရားအားမေးလျှောက်
ကြလျှင်၊-ထာဝရဘုရားက၊ ယုဒသည်ချီသွားရ
မည်။ထိုပြည်ကိုသူ၏လက်၌ငါအပ်မည်ဟုမိန့်
၂ တော်မူ၏။- ယုဒသည် ဗိမိအစ်ကိုရှိမောင်အား၊
ခါနနိလူတို့ကိုတိုက်ခြင်းငှါ၊ ငါ့အမွေမြေသို့ ငါ
နှင့်အတူလိုက်ပါ။သင့်အမွေမြေသို့လည်း၊သင်
နှင့်အတူငါလိုက်သွားမည်ဟု ဆိုသည်အတိုင်း၊
၃ ရှိမောင်သည် လိုက်သွားလေ၏။- ယုဒချီသွား
၍၊ ထာဝရဘုရားသည် ခါနနိလူ၊ဖေရဇိလူတို့
ကိုအပ်တော်မူသဖြင့်၊ဗေဇက်မြို့၌လူတသောင်း
၄ ကိုသတ်လေ၏။- အဒေါနိဗေဇက်မင်းကို ဗေ
ဇက်မြို့၌တွေ့၍၊ ခါနနိလူ၊ ဖေရဇိလူတို့ကိုသတ်
၅ သောအခါ၊- အဒေါနိဗေဇက်သည် ပြေးလေ
၏။ယုဒလူတို့သည်လိုက်၍ဖမ်းမိပြီးလျှင်၊လက်
၆ မ၊ခြေမတို့ကိုဖြတ်ကြ၏။- အဒေါနိဗေဇက်
ကလည်း၊ လက်မနှင့် ခြေမဖြတ်သောမင်းကြီး
၇ ခုနစ်ဆယ်တို့သည်၊အထက်ကငါ၏စားပွဲအောက်
၌စားနှုပ်စားပေါက်ကိုကောက်၍စားရကြ၏။
ငါပြုသည်အတိုင်း၊ ဘုရားသခင်သည်ငါ၌
အပြစ်ပေးတော်မူပြီဟုဆို၏။ ထိုမင်းကိုယေရု
၈ ရှလင်မြို့သို့ခို၍၊ သူသည်ထိုမြို့မှာသေလေ၏။-ယု
ဒအမျိုးသားတို့သည် ယေရုရှလင်မြို့ကိုတိုက်
၉ ယူ၍၊ ထားနှင့်လုပ်ကြပြီးမှ၊ မီးရှို့ကြ၏။- ထို
နောက်၊တောင်ပေါ်၌နေ၍၊တောင်မျက်နှာ၌နေ၍
မြိုင်ထဲ၌နေသောခါနနိလူတို့ကိုအတိုက်
သွားကြ၏။
၁၀ တဖန်ယုဒအမျိုးသည်၊ကိရယသာအာမည်
ဟောင်းရှိသောဟေဗြုန်မြို့၌နေသောခါနနိလူ
တို့ရှိရာသို့ချီသွား၍၊ ရှေရှဲ၊ အဟိမန်၊ တာလမဲ
၁၁ တို့ကိုလုပ်ကြ၏။- တဖန် ကိရယသေဖာအ
မည်ဟောင်းရှိသောဒေဗိရမြို့သားတို့ရှိရာသို့ချီ
၁၂ သွား၍၊- ကာလက်က၊ ကိရယသေဖာမြို့ကို
တိုက်ယူလုပ်ကြသောသူအား၊ငါသည်သမီးအာ
၁၃ ခသကိုပေးစားမည်ဟု ဆိုလျှင်၊- ကာလက်ညီ၊
ကေနတ်၏သား၊ ဩသံယေလ သည် ထိုမြို့ကို
တိုက်ယူ၍၊ ကာလက်သည် သမီးအာခသကို သူ
၁၄ အားပေးစားလေ၏။-ထိုမိန်းမသည်ခရီးသွားမည်
အခါ၊ လယ်တကွက်ကို အဘ၌တောင်းခြင်းငှါ
ထင်နှင့်တိုင်ပင်ပြီးမှ၊ မြည်းပေါ်ကဆင်းလေ၏။ အ
ဘကာလက်က၊ အဘယ်အလိုရှိသနည်းဟု မေး
၁၅ လျှင်၊- ထိုမိန်းမက၊ ကောင်းကြီးပေးတော်မူပါ၏။
ကိုယ်တော်သည် တောင်မျက်နှာအရပ်ကိုပေး

ပါ ငြိမ်းစမ်းရေတွင်းတို့ကိုလည်းပေးတော်မူပါဦး
ဟု တောင်း သည် အတိုင်း၊ အဖ သည် အထက်
စမ်း ရေတွင်း၊ အောက် စမ်းရေတွင်း တို့ကို ပေး
ထေ၏။
၁၆ မောရှေယောက္ခမ၏ သားမြေးဖြစ်သော ကေ
နိ အမျိုးသား တို့သည်၊ ယုဒ အမျိုးသား တို့နှင့်
အတူ စွန်ပလွံမြို့မှ အာရဒ်မြို့ တောင်ဘက်၊ ယုဒ
၁၇ တောသို့ လိုက်သွား၍ နေရာကျကြ၏။- တဖန်
ယုဒသည်အစ်ကို ရှိမောင်နှင့်အတူ သွား၍၊ ဇေ
ဖတ်မြို့၌နေသောခါနနိလူတို့ကိုလုပ်ကြ၍၊ မြို့ကို
ရှင်းရှင်း ဖျက်ဆီးပြီးလျှင်၊ ထိုမြို့ကို ဟော်မာအ
၁၈ မည်ဖြင့်သမုတ်ကြ၏။- ယုဒသည် ဂါဇမြို့နှင့်မြို့
နယ်၊ အာရှကေလုန်မြို့နှင့် မြို့နယ်၊ ဧကြုန်မြို့နှင့်
၁၉ မြို့နယ် တို့ကို လည်း တိုက်ယူ ထေ၏။- ထာဝရ
ဘုရားသည် ယုဒနှင့်အတူ ရှိတော်မူ၍၊ သူသည်
တောင်ပေါ်မှာနေသောသူတို့ကိုနှင်ထုတ်လေ၏။
ချိုင့် သား တို့ကို မ နှင်ထုတ် နိုင်။ အကြောင်းမူ
၂၀ ကား၊ သူတို့သည်သံရထားရှိကြ၏။-မောရှေမှာ
ထားသည် အတိုင်း၊ ဟေဗြုန် မြို့ ကို ကာလက်
အား ပေး ကြ ၍၊ သူသည် အာ န က သား သုံး
၂၁ ယောက်တို့ကို ထိုမြို့မှ နှင်ထုတ် ထေ၏။- ဗယ်ာ
မိန် အမျိုး သား တို့သည်၊ ယေရု ရှလင် မြို့၌ နေ
သော ယေ ဗုသိ လူတို့ ကို မ နှင် ထုတ်ဘဲ၊ သူတို့
သည် ယနေ့ တိုင်အောင် ဗယ်ာမိန် အမျိုးသားတို့
နှင့်အတူ၊ ယေရုရှလင်မြို့၌နေကြသတည်း။
၂၂ ယောသပ်အမျိုးသားတို့သည်လည်း၊ ဗေသ
ထမြို့သို့ ချီသွား၍၊ ထာဝရဘုရားသည်သူတို့နှင့်
၂၃ အတူ ရှိတော်မူ၏။- လုဇအမည်ဟောင်းရှိသော
ထိုမြို့ကို စူးစမ်းစေခြင်းငှါ စေလွှတ်သော သူလျှို
၂၄ တို့သည်၊-မြို့ထဲက ထွက်လာသောလူတယောက်
ကိုတွေ့မြင်၍၊ မြို့ထဲသို့ ဝင် သော လမ်းကို ပြပါ
တော့။ သို့ပြလျှင်၊ သင့်ကို ချမ်းသာပေးမည်ဟု
၂၅ ဆိုသော်၊-ထိုသူသည်မြို့ထဲသို့ဝင်သောလမ်းကို
ပြသဖြင့်၊ သူတို့သည် မြို့သားတို့ကို ထားနှင့်လုပ်
ကြ၍၊ ထိုလူနှင့်သူ၏ အိမ်သား အပေါင်း တို့ကို
၂၆ လွှတ်ကြ၏။-ထိုသူသည် ဟိတ္တိပြည်သို့သွားပြီး
လျှင်၊ မြို့ကို တည်ထောင်၍၊ လုဇအမည်ဖြင့် သ
မုတ် ထေ၏။ ယနေ့ တိုင် အောင် ထိုသို့ ခေါ်ဝေါ်
ကြသတည်း။
၂၇ မနာရှေအမျိုးသည်၊ ဗက်ရှန်မြို့ရွာများ၊ တာ
နတ်မြို့ ရွာများ၊ ဒေါရမြို့ ရွာများ၊ ဣဗလံ မြို့ရွာ
များ၊ မေဂိဒ္ဒေါမြို့ရွာများ၌နေသောသူတို့ကိုမနှင်
၂၈ ထုတ်ဘဲ၊ ခါနနိလူတို့သည် အနိုင် နေကြ၏။- တ
ဖန် ဣသရေလအမျိုး သား တို့သည် အားကြီး
သော အခါ၊ ခါနနိ လူ တို့ ကို မ နှင် ထုတ် သော်
၂၉ လည်း၊ အခွန်ကိုဆက်သွင်းစေကြ၏။-ထိုအတူ၊
ဧဖရိမ် အမျိုးသည် ဂေဇာမြို့၌ နေသောခါနနိလူ
တို့ကိုမနှင်ထုတ်ဘဲ၊ သူတို့သည်ဂေဇာမြို့၌ရော
၃၀ နှောလျက်နေကြ၏။-ထိုအတူ၊ ဇာဗုလုန်အမျိုး
သည် ကိတြုန်မြို့သား၊ နဟာလောလ မြို့သား
တို့ကိုမနှင် ထုတ်ဘဲ၊ ခါနနိလူတို့သည် ရောနှော
၃၁ လျက်နေ၍ အခွန်ပေးကြ၏။- ထိုအတူ၊ အာရှာ
အမျိုးသည် အက္ကောမြို့ သား၊ ဇိဒုန်မြို့သား၊ အာ
လပ်မြို့သား၊ အာခဇိပ်မြို့သား၊ ဟေလဗမြို့သား၊
အာဖိတ် မြို့သား၊ ရဟောဘမြို့သားတို့ကို မနှင်
၃၂ ထုတ်ဘဲ၊- အာရှာအမျိုးသားတို့သည်ပြည်သား
၃၃ ခါနနိလူတို့နှင့် ရောနှော၍နေကြ၏။- ထိုအတူ၊
နဿလိအမျိုးသည်ဗက်ရှေမက်မြို့သား၊ ဗေသ
နတ်မြို့သားတို့ကို မနှင်ထုတ်ဘဲ၊ ပြည်သားခါနနိ
လူတို့နှင့်ရောနှော၍ နေကြ၏။ သို့ရာတွင်၊ ဗက်
ရှေမက်မြို့သား၊ ဗေသနတ်မြို့သားတို့သည် အ
၃၄ ခွန် ပေးလျက်နေကြ၏။- အာမောရိ လူတို့သည်
လည်း၊ ဒန်အမျိုးသားတို့ကို တောင်ပေါ်သို့ နှင်
သဖြင့်၊ ချိုင့်ထဲမှာနေရသောအခွင့်ကိုမပေးကြ။-
၃၅ အာမောရိ လူတို့သည် ဟေရက် တောင်ပေါ်မြို့၊
အာဇလုန်မြို့၊ ရှာလဗိမ်မြို့၌ အနိုင်နေကြ၏။ သို့
ရာတွင်၊ ယောသပ် အမျိုး သား တို့သည် အား
ကြီးသဖြင့်၊ အာမောရိလူတို့သည် အခွန်ပေးရ
၃၆ ကြ၏။-အာမောရိလူနေရသော အရပ်သည်၊ အ
ကရဗ္ဗိမ်ကုန်းနား၊ သေလမြို့မှစ၍ အထက်အရပ်
ပေတည်း။

၂

၁ ထာဝရဘုရား၏တမန်တော်သည်၊ ဂိလဂါလ
မြို့မှ ဗောခိမ်မြို့သို့လာ၍၊ သင်တို့ ဘိုးဘေး တို့
အား ငါကျိန်ဆိုသော ပြည်သို့၊ အဲဂုတ္တုပြည်မှ
သင်တို့ကိုငါဆောင်ခဲ့ပြီ။ သင်တို့နှင့် ငါဖွဲ့သော
ပဋိညာဉ်ကို ငါမဖျက်၊ အစဉ်အမြဲစောင့်မည်။-
၂ သင်တို့သည် ဤပြည်သားတို့နှင့် မိဿဟာယမ
ဖွဲ့ရ။ သူတို့ယဇ်ပလ္လင်တို့ကိုလှည်းချရမည်ဟု၊
ငါဆိုသော်လည်း၊ သင်တို့သည် စကားကိုနား
မထောင်ကြ။ အဘယ်ကြောင့် ဤသို့ ပြုကြသ
၃ နည်း။-တဖန်ငါဆိုသည်ကား၊ ဤပြည်သားတို့
ကိုသင်တို့ရှေ့မှ ငါမနှင်ထုတ်။ သူတို့သည်သင်
တို့တဖက်၌ မူဆိုး လုပ်လျက်၊ သူတို့ ဘုရားတို့

သည်ထည်း၊ ဆင်ထို့၌ ကျော့ကွင်း၊ ဖြစ်ကြလိမ့်
၄ မည်ဟု မိန့်တော်မူ၏။- ထာဝရဘုရား၏ တမန်
တော်သည်၊ ဣသရေလအမျိုးသားအပေါင်းတို့
အား၊ ဤသို့မိန့်တော်မူသောအခါ၊ လူများတို့သည်
၅ အသံကိုလွှင့်၍ ငိုကြွေးကြ၏။- ထိုအရပ်ကိုဗော
ခိမ်အမည်ဖြင့်မှည့်၍၊ ထာဝရဘုရားအားယဇ်
ပူဇော်ကြ၏။
၆ အထက်က ယောရှုသည် လူများတို့ကို လွှတ်
လိုက်သောအခါ၊ ဣသရေလအမျိုးသားတို့သည်
အသီးအသီး မိမိတို့ အမွေခံရာ မြေကို သိမ်းယူ
၇ ခြင်းငှါသွားကြ၏။- ယောရှုထက်ထက်ကာလ
ပတ်လုံး၊ ဣသရေလအမျိုးသားတို့သည်ထာဝ
ရဘုရားကိုဝတ်ပြုကြ၏၊ ထာဝရဘုရားသည်ဣ
သရေလအမျိုးအဖို့ပြုတော်မူသော အမှုကြီးအ
လုံးစုံတို့ကို သိမြင်၍၊ ယောရှုမရှိသော နောက်
အသက်ရှင်သေးသော အသက်ကြီးသူတို့ထက်
ထက်၌လည်း၊ ထာဝရဘုရားကိုဝတ်ပြုကြ၏။-
၈ ထာဝရဘုရား၏ကျွန်၊ နုန်၏သားယောရှုသည်
အသက် တရာ တဆယ် ရှိသော်၊ အနိစ္စရောက်
၉ လေ၏။-ဧဖရိမ်တောင်ပေါ်၊ ဂါရှကုန်းမြောက်
မှာရှိသော၊ သူ၏အမွေခံရာတိမနသေရမြို့နယ်
မြေ၌သင်းဂြိုဟ်ကြ၏။
၁၀ ယောရှု ထက်ထက်ကာလ၌ ဖြစ်သော သူအ
ပေါင်းတို့သည်လည်း၊ ဘိုးဘေးတို့ စုဝေးရာသို့
ရောက်ကြ၏၊ ထာဝရဘုရားကိုငှင်၊ ဣသရေလ
အမျိုးအဖို့ ပြုတော် မူသော အမှုတို့ကိုငှင် မသိ
သော၊ နောင်ကာလအမျိုးသားတို့သည်ပေါ်လာ
၁၁ ကြ၏။-ထိုကာလအခါဣသရေလအမျိုးသားတို့
သည်ထာဝရဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၍၊
၁၂ ဗာလဘုရားတို့ကိုဝတ်ပြုကြ၏။- အဲဂုတ္တုပြည်
မှသူတို့ကို ဆောင်ခဲ့တော်မူသော၊ ဘိုးဘေးတို့၏
ဘုရားသခင် ထာဝရဘုရားကို စွန့်၍၊ ပတ်ဝန်း
ကျင်၌ရှိသောလူမျိုးတို့၏ဘုရားတပါးတို့နောက်
သို့ လိုက်လျှပ် ဦးညွှတ် သဖြင့်၊ ထာဝရဘုရား
၁၃ အမျက်တော်ကို ထွက်စေကြ၏။-ထာဝရဘုရား
ကိုစွန့်၍၊ ဗာလဘုရား၊ အာရှတရက်ဘုရားတို့
၁၄ ကိုဝတ်ပြု ကြ သော ကြောင့်၊- ထာဝရ ဘုရား
သည် ဣသရေလအမျိုး၌ ပြင်းစွာအမျက်ထွက်
လျက်၊ လုယူသော သူတို့ လက်သို့ အပ်၍၊ ပတ်
ဝန်းကျင်သောရန်သူတို့၌ရောင်းတော်မူသဖြင့်၊
ရန်သူတို့ရှေ့မှာသူတို့သည်တဖန်မရပ်နိုင်ကြ။-
၁၅ သူ တို့ သည် ထွက် သွား လေ ရာရာ၌၊ ထာ ဝရ
ဘုရား မိန့်မြွက်ကျိန်ဆို တော်မူသည့် အတိုင်းအ
ထက် တော် အဆိုးအတားနှင့် ရှေ့၍၊ အလွန်
၁၆ ဆင်းရဲခြင်းသို့ ရောက်ကြ၏။- သို့ရာတွင်၊ လုယူ
သောသူတို့လက်မှ ကယ်လွှတ် သော တရားသူ
ကြီးတို့ကို၊ ထာဝရ ဘုရား ပေါ်ထွန်းစေတော်မူ
၁၇ ၏။-ထိုတရားသူကြီးတို့ စကားကို ထည်း၊ သူတို့
သည်နားမထောင်၊ အခြားတပါးသောဘုရားတို့
နှင့်မှားယွင်း၍ဦးညွှတ်ကြ၏၊ ဘိုးဘေးတို့သည်
ထာဝရဘုရား ၏ ပညတ် တော် တို့ ကို ကျင့် ၍
လိုက်သောလမ်းမှ၊ သူတို့သည် အလျင်အမြန်လွှဲ
သွားသဖြင့်၊ ဘိုးဘေးကျင့်သည်အတိုင်းမကျင့်
၁၈ ကြ။- ထာဝရဘုရားသည်တရားသူကြီးကိုပေါ်
ထွန်းစေသော အခါ၊ သူနှင့်အတူရှိ၍၊ သူလက်
ထက် ပတ် လုံး၊ ဣ သရေလ လူ တို့ကို ရန် သူ ၏
ထက်မှကယ်လွှတ်တော်မူ၏၊ အကြောင်းမူကား၊
သူတို့သည်နှောင့်ရှက် ညှဉ်းဆဲ ခြင်းကိုခံရ၍
မြည်တမ်း ကြသောအခါ၊ ထာဝရဘုရားသည်
၁၉ နောင်တ ရတော်မူ၏။- တရားသူကြီး သေသော
နောက်၊ သူတို့သည်တဖန် ဘိုးဘေးထက် သာ၍
ဆိုးသဖြင့်၊ အခြားတပါးသောဘုရားတို့နောက်
သို့လိုက်လျက်ဝတ်ပြု၍ဦးညွှတ်ကြ၏၊ မိမိတို့အ
ကျင့်ဝထုနှင့် ကြမ်းတမ်းသော ထမ်းကိုမစွန့်
၂၀ မပယ်ကြ။- ထာဝရဘုရားသည် ဣသရေလအ
မျိုး၌ပြင်းစွာအမျက်ထွက်လျက်၊ ဤလူမျိုးသည်
ငါ့စကားကို နားမထောင်၊ သူတို့ဘိုးဘေးတို့နှင့်
၂၁ ငါဖွဲ့သောပဋိညာဉ်ကိုဖျက်သောကြောင့်၊-ယော
ရှုသေ သောနောက်၊ ကျန်ကြွင်းရစ်သော လူမျိုး
တစုံတမျိုးကို သူတို့ရှေ့မှ နောက်တဖန် ငါမနှင်
၂၂ ထုတ်၊-သူတို့ဘိုးဘေးတို့သည်၊ ထာဝရဘုရား
၏လမ်းတော်သို့ လိုက် ခြင်းငှါ စောင့် ရှောက်သ
ကဲ့သို့၊ သူတို့သည် စောင့်ရှောက် မည် လော၊ မ
စောင့်ရှောက် လောဟု၊ ကျန် သေးသော လူမျိုး
အားဖြင့် ဣသရေလ အမျိုးကို ငါစုံစမ်းမည်ဟု
၂၃ မိန့်တော် မူသည် နှင့်အညီ၊- ထိုလူမျိုးကို ယော
ရှုလက်၌မအပ်၊ အလျင်အမြန် မနှင်ထုတ်ဘဲ နေ
တော်မူ၏။

၃

၁ ခါနာန်ပြည်၌တိုက်သောစစ်မှုရှိသမျှတို့ကိုမ
၂ သိသော၊ ဣသရေလအမျိုးသားအပေါင်းတို့ကို
စုံစမ်းခြင်းငှါ၎င်၊ စစ်မှုကိုမသိသောဣသရေလ
အမျိုးသားအစဉ်အဆက်တို့သည်၊ စစ်အတတ်
ကိုသင်၍တတ်စေခြင်းငှါ၎င်၊ ထာဝရဘုရားချန်

၃ ထားတော်မူသောလူမျိုးများဟူမူကား၊- ဖိ
လိတ္တိမင်းငါးပါးအစရှိသော၊ ခါနာန်လူအမျိုး
မျိုး၊ ဇိဒုန်လူ၊ ဗာလဟေရမုန်တောင်မှစ၍၊ ဟာ
မတ်ထမ်းဝတိုင်အောင်လေဗနုန်တောင်ပေါ်
မှာနေသော ဟိဝိလူတို့သည် ကျန်ကြွင်းကြ၏။-
၄ ထာဝရဘုရားသည် မောရှေအားဖြင့်၊ ဘိုးဘေး
တို့ကိုမှာထားတော်မူသော ပညတ်များအတိုင်း
ကျင့်မည်၊ မကျင့်မည်ကိုထင်ရှားစေခြင်းငှါ၊ ဣ
သရေလအမျိုးကိုစုံစမ်းဖို့ရာဖြစ်သတည်း။
၅ ဣသရေလအမျိုးသားတို့သည်၊ ခါနာန်လူ၊
ဟိတ္တိလူ၊ အာမောရိလူ၊ ဖေရဇိလူ၊ ဟိဝိလူ၊ ယေ
၆ ဗုသိလူတို့တွင်နေ၍၊- သူတို့သမီးနှင့်စုံဖက်ခြင်း
ကိုပြုလျက်၊ မိမိတို့သမီးကို ပေးစားလျက်၊ သူတို့
၇ ဘုရားများကို ဝတ်ပြုကြ၏။- ဣသရေလအမျိုး
သားတို့သည်၊ ထာဝရဘုရားရှေ့တော်၌ဒုစရိုက်
ကိုပြု၍၊ မိမိတို့ဘုရားသခင်ထာဝရဘုရားကိုမေ့
လျော့သဖြင့်၊ ဗာလဘုရားများ၊ အာရှရပင်များ
၈ ကိုဝတ်ပြုသောကြောင့်၊-ထာဝရဘုရားသည်ဣ
သရေလအမျိုး၌ပြင်းစွာအမျက်တော်ထွက်
၍၊ မေသောပေါတာမိရှင်ဘုရင် ခုရှန်ရိရှသိမ်၌
ရောင်းတော်မူသဖြင့်၊ ဣသရေလလူတို့သည်ရှစ်
နှစ်ပတ်လုံး၊ ထိုရှင်ဘုရင်ထံ၌ ကျွန်ခံရကြ၏။-
၉ နောက်တဖန် ထာဝရဘုရားကို အော်ဟစ်ကြ
သောအခါ၊ ကယ်တင်သောသခင်၊ ကာလက်ညီ၊
ကေနတ်၏သားဩသံယေလကို၊ သူတို့အဖို့ပေါ်
၁၀ ထွန်းစေတော်မူ၏။- ထာဝရဘုရား၏ဝိညာဉ်
တော်သည်သူ့အပေါ်သို့သက်ရောက်သဖြင့်၊ သူ
သည်ဣသရေလအမျိုးကိုအုပ်စိုး၍စစ်ချီလေ၏။
မေသောပေါတာမိရှင်ဘုရင် ခုရှန်ရိရှသိမ် ကို သူ
လက်၌ ထာဝရဘုရားအပ်တော်မူသဖြင့်၊ သူ
၁၁ သည်ထိုရှင်ဘုရင်ကိုအောင်လေ၏။-အနှစ်လေး
ဆယ်ထိုင်တိုင်တပြည်လုံးငြိမ်းပြီးမှ၊ ကေနတ်၏
သားဩသံယေလသည်သေလေ၏။
၁၂ တဖန် ဣသရေလအမျိုးသည် ထာဝရဘုရား
ရှေ့တော်၌ ဒုစရိုက်ကိုပြုသောကြောင့်၊ မောအ
ရှင်ဘုရင်ဧဂလုန်ကို ဣသရေလ အမျိုးတဖက်
၁၃ ၌ခွန်အားနှင့်ပြည့်စုံစေတော်မူ၏။-ထိုမင်းသည်
အမ္မုန်အမျိုးသား၊ အာမလက်အမျိုးသားတို့
ကိုစုဝေးစေလျက် ချီသွား၍၊ ဣသရေလလူတို့
ကိုလုပ်ကြံပြီးမှ၊ စွန်ပလွံမြို့ကိုသိမ်းယူသဖြင့်၊-
၁၄ ဣသရေလအမျိုးသားတို့သည် တဆယ်ရှစ်နှစ်
ပတ်လုံး၊ မောအရှင်ဘုရင်ဧဂလုန်မင်းထံ၌ကျွန်
၁၅ ခံရကြ၏။ နောက်တဖန်ထာဝရဘုရားကိုအော်
ဟစ်သောအခါ၊ ကယ်တင်သောသခင်၊ လက်ျာ
လက်ကိုမသုံးတတ်သောဗယ်ာမိန်အမျိုး၊ ဂေရ
သား ဧဟုဒ ကို ပေါ်ထွန်းစေတော်မူ၏။ သူလက်
တွင်ဣသရေလလူတို့သည်၊ လက်ဆောင်ကိုမော
၁၆ အရှင်ဘုရင် ဧဂလုန် ထံသို့ ပေးလိုက်ကြ၏။-ဧ
ဟုဒသည် အလျားတတောင်ရှိသော သန်လျက်
ကို လုပ်၍၊ လက်ျာ ပေါင် အဝတ် တွင်း၌ စည်း
၁၇ ထားပြီးလျှင်၊- မောအရှင်ဘုရင်ဧဂလုန်ထံသို့
လက်ဆောင်ကို ဆောင်ခဲ့လေ၏။ ဧဂလုန် သည်
၁၈ အဆွန်ဝသောသူဖြစ်၏။- ဧဟုဒသည် လက်
ဆောင်ကို ဆက်ပြီးလျှင်၊ လက်ဆောင်ကိုထမ်း
၁၉ သောသူတို့ကိုလွှတ်လိုက်၍၊- ဂိလဂါလမြို့နား
၌ရှိသော ကျောက် တိုင်တို့မှ ကိုယ်တိုင် ပြန်လာ
၍၊ ဘုရားကျွန်တော်သည် တိတ်ဆိတ်စွာလျှောက်
စရာအကြောင်းရှိပါသည်ဟု ဆိုလျှင်၊ ရှင်ဘုရင်
က၊ တိတ်ဆိတ်စွာနေကြဟု အမိန့်တော်ရှိသည်
အတိုင်း၊ အထံတော်၌ ခစားသောသူ အပေါင်း
၂၀ တို့သည် ထွက်ကြ၏။- ထိုအခါ ရှင်ဘုရင် သည်
ကိုယ်တိုင်တယောက်တည်း နေတတ် သောနွေ
နန်းဆောင်၌ထိုင်နေစဉ်၊ ဧဟုဒသည်ချဉ်းကပ်
၍၊ ကိုယ်တော်နှင့်ဆိုင်သော ဘုရားသခင်၏အ
မိန့်တော်ပါပါ၏ ဟုလျှောက် သော်၊ ရှင်ဘုရင်
၂၁ သည် ထလေ၏။- ဧဟုဒသည် လက်ဲ ထက်ကို
ဆန့်လျက်သန်လျက်ကို လက်ျာပေါင်မှထုတ်၍၊
၂၂ ရှင်ဘုရင်၏ဝမ်းကိုထိုးသဖြင့်၊-လက်ကိုင်အရိုး
နှင့်တကွသန်လျက်မြုပ်ဝင်၍၊ ဝမ်းထဲကမနှုတ်
နိုင်အောင်ဆီဥသည်သန်လျက်ကိုလွှမ်းလျက်၊
၂၃ ချေးနှလည်း ထွက်လျက်ရှိလေ၏။- ထိုအခါဧ
ဟုဒသည်အခန်းပြင်သို့ထွက်ပြီးလျှင်၊ နန်းတော်
၂၄ တံခါးတို့ကိုပိတ်၍ သော့ခတ်လေ၏။- ထွက်
သွားသောနောက်၊ ကျွန်တော်မျိုးအချို့တို့သည်
လာ၍၊ နန်းတော်တံခါး၌ သော့ခတ် လျက်ရှိ
သည်ကိုမြင်လျှင်၊ စင်စစ်နွေနန်းဆောင်၌ စက်
၂၅ တော်ခေါ်သည်ဟုဆိုလျက်၊-ရှက်ကြောက်သည်
တိုင်အောင်ငံ့နေပြီးမှ၊ သူတို့အရှင်သည် တံခါး
ကိုမဖွင့်သောကြောင့်၊ သူတို့သည်သော့ကိုယူ၍
ဖွင့်ကြည့်သောအခါ၊ မြေပေါ်မှာလဲ၍သေလျက်
၂၆ ရှိသောမိမိတို့အရှင်ကိုတွေ့မြင်ကြ၏။- ထိုသို့သူ
တို့သည်ငံ့နေကြစဉ်တွင်၊ ဧဟုဒသည်ဘေးလွတ်
အောင်၊ ကျောက်တိုင်တို့ကိုလွန်၍ ဇိရပ်ရွာသို့
၂၇ ရောက်ပြီးမှ၊- ဧဖရိမ်တောင်ပေါ်မှာ တံပိုးကို

မှတ်၍၊ ဣသရေလအမျိုးသားတို့သည်သူနောက်
၂၈ သို့လိုက်လျှက်တောင်ပေါ်ကဆင်းကြ၏။ သူက
လည်း၊ ငါနောက် သို့ လိုက် ကြလော့၊ ထာဝရ
ဘုရားသည် သင်တို့၏ ရန်သူ၊ မောအပ်လူတို့ ကို
သင်တို့လက်၌ အပ်တော် မူမည်ဟု ဆိုသည်အ
တိုင်း၊ သူနောက်မှာဆင်း၍၊ ယော်ဒန်မြစ်ကူးရာ၊
မောဘပြည်သို့သွားရာထမ်းကိုဆီးတားသဖြင့်၊
၂၉ လူတစ်ယောက်ကိုမျှမကူးစေရ၊- ထိုအခါခွန်
အားကြီးသော မောဘစစ်သူရဲ တယောက်မျှ မ
၃၀ လွတ်ဘဲ၊ လူတသောင်း ကို သတ်၍၊- မောအပ်အ
မျိုးသည်ဣသရေလအမျိုးလက်၌ရှုံးသဖြင့်၊အ
နှစ် ရှစ်ဆယ် တိုင်တိုင် တပြည်လုံးငြိမ်းလေ၏။-
၃၁ ထိုနောက်မှာအာနတ်သားရှံဂါပေါ်ထွန်း၍၊
ဒုတ်ချွန်နှင့် ဖိလိတ္တိ လူခြောက်ရာတို့ကို သတ်သ
ဖြင့်၊ ဣသရေလ အမျိုး သား တို့ကို ကယ်ထွက်
လေ၏။

၄

၁ ဧဟုဒ်သေသောနောက်၊ ဣသရေလ အမျိုး
သားတို့သည် ထာဝရဘုရားရှေ့တော်၌ တဖန်ဒု
၂ စရိုက်ကိုပြုသောကြောင့်၊- ထာဝရဘုရားသည်
ဟာဇော်မြို့၌မင်းပြုသော ခါနာန်ရှင်ဘုရင်ယာ
ဘိန်၌ ရောင်းတော်မူ၏။ သူ့ခန့်ထားသော ဗိုလ်
ချုပ်မင်းကား၊ ဂေါဣမ်ပြည် ဟာရောရှက်မြို့၌
၃ နေသောသိသရတည်း။- ထိုမင်း၌သံရထားကိုး
ရာရှိ၏။ ဣသရေလ အမျိုးသားတို့ကို အနှစ် နှစ်
ဆယ်ပတ်လုံးအလွန်ညှဉ်းဆဲသောကြောင့်၊သူ
တို့သည်ထာဝရဘုရားကိုအော်ဟစ်ကြ၏။
၄ ထိုကာလအခါ လပိဒုတ် မြို့သား၊ ပရောဖက်မ
ဒေဗောရသည်ဣသရေလအမျိုးကိုအုပ်စိုး၏။-
၅ သူသည်ဧဖရိမ်တောင်ပေါ်၊ ရာမမြို့နှင့်ဗေသလ
မြို့စပ်ကြား၊ ဒေဗောရစွန်ပလွံပင်အောက်မှာနေ
၍၊ ဣသရေလအမျိုးသားတို့သည်ထိုပရောဖက်
မ၏စီရင်ခြင်းကို ခံထိုက်သောငှါ ချောက်လာတတ်
၆ ကြ၏။- တဖန်ဒေဗောရသည် လူကိုစေလွှတ်၍၊
နဿလိခမြို့ကေဒေရှမြို့မှာ နေသောအဘိနောင်
၏သားဗာရက်ကိုခေါ်ပြီးလျှင်၊ သင်သည်နဿ
လိအမျိုး၊ ဇာဗုလုန် အမျိုးထဲက လူတသောင်း
ကိုခေါ်ဆောင်၍၊ တာဗော်တောင် သို့ သွား
၇ လော့။- ငါသည်လည်း၊ ယာဘိန်မင်း၏ ဗိုလ်ချုပ်
သိသရနှင့်ရထားဗိုလ်ပါများကိုသင်ရှိရာကိရှုန်
မြစ်သို့သွေးဆောင်၍၊ သင့်လက်၌အပ်မည်ဟု၊
ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရဘုရား
၈ မှာထားတော်မူသည်မဟုတ်လောဟုဆိုလေ၏။- ဗာရက်
ကလည်း၊ ကိုယ်တော်သည်အကျွန်ုပ် နှင့် အတူ
သွားလျှင်၊ အကျွန်ုပ် သွား ပါမည်။ ကြွတော် မ မူ
၉ လျှင် မူကား၊ မသွားပါဟု လျှောက်သော်၊- ဒေ
ဗောရက၊ ငါသည်သင်နှင့်အတူအမှန်သွားမည်။
သို့သော်လည်း၊ သင်သွားရာလမ်း၌ဂုဏ်အသ
ရေကိုမရရ။ ထာဝရဘုရားသည်သိသရကိုမိန်းမ၌
ရောင်းတော်မူမည်ဟု ဆိုပြီးမှ၊ ထ၍ဗာရက်နှင့်
အတူကေဒေရှမြို့သို့သွားလေ၏။
၁၀ ဗာရက်သည်နဿလိအမျိုးသား၊ ဇာဗုလုန်
အမျိုးသားတို့ကို ကေဒေရှ မြို့သို့ ခေါ်၍၊ ထိုထ
သောင်းသူတသောင်းနှင့်တကွ ဒေဗောရပါလျှက်
၁၁ တက်လေ၏။- မောရှေ၏ယောက္ခမဟောဗတ်၏
သားခြေးအဝင်၊ ကေနိအမျိုးသားဟေဗာသည်၊
ကေနိလူတို့ နှင့်ခွါ၍၊ ကေဒေရှမြို့အနား၊ ဇာနိမ်
အပိတ်ပင်ခြေရင်း၌ တဲကိုဆောက်လျှက်နေနှင့်
၁၂ လတည်း။- အဘိနောင် ၏ သား ဗာရက် သည်
တာဗော်တောင်ပေါ်သို့တက်ကြောင်းကို သိသ
၁၃ ရအားကြားပြောလျှင်၊- သိသရသည်မိမိရထား
ရှိ သမျှ တည်း ဟူသော၊ သံ ရထား ကိုးရာနှင့်၊
ဂေါဣမ်ပြည် ဟာရောရှက် မြို့မှစ၍ ကိရှုန်မြစ်
တိုင်အောင်၊ မိမိလူအပေါင်းတို့ကိုစုဝေးစေ၏။-
၁၄ ဒေဗောရကလည်း၊ ထလော့၊ ယနေ့ကား၊ ထာဝ
ရဘုရားသည်သိသရကိုသင့်လက်၌ အပ်တော်
မူသောနေ့ ဖြစ်၏။ ထာဝရဘုရားသည်သင့်ရှေ့မှာ
ကြွတော်မူပြီမဟုတ်လောဟု ဆိုလေသော်၊ ဗာ
ရက် သည် လူ တ သောင်း နှင့် တကွ၊ တာ ဗော်
၁၅ တောင် ပေါ်က ဆင်း လေ ၏။- ထာ ဝရ ဘုရား
သည်၊ သိသရမှစ၍ သူ၏ ရထားများနှင့် ဗိုလ်ပါ
စစ်သည်များအပေါင်းတို့ကို၊ ဗာရက်ရှေ့မှာထား
ဖြင့် ရှုံးစေ တော် မူသောကြောင့်၊ သိသရသည်
၁၆ မိမိ ရထား မှ ဆင်း၍ ခြေ ဖြင့် ပြေး လေ ၏။- ဗာ
ရက်သည်ရထားများ၊ ဗိုလ်ပါစစ်သည်များတို့ကို
ဂေါဣမ်ပြည် ဟာရောရှက်မြို့တိုင်အောင်လိုက်
၍၊ သိသရစစ်သူရဲအပေါင်းတို့သည်တယောက်
မျှမကျန်ကြွင်း၊ ထားနှင့်သေကြကုန်၏။
၁၇ သိသရသည်၊ ကေနိ အမျိုး သား၊ ဟေဗာ၏မ
ယားယေလ၏တဲသို့ခြေဖြင့်ပြေး၏။ ထိုကာလ၌
ဟာဇော်ရှင်ဘုရင်ယာဘိန်သည်၊ ဟေဗာအမျိုး
သားချင်း ကေနိလူတို့နှင့် မိဿဟာယဖွဲ့လျှက်
၁၈ ရှိသ တည်း။- ယေလ သည် သိသရကို ခရီးဦး
ကြိုပြုခြင်းငှါ ထွက်၍၊ အခင်း၊ ဝင်ပါ။ ကျွန်မအိ

ထဲသို့ဝင်ပါ၊ မစိုးရိမ်ပါနှင့်ဟုဆိုလျှင်၊ သူသည်အထံ
သို့၊ သူသည်ထဲသို့ဝင်၍၊ အထဲ
၁၉ ထည်နှင့်ဖုံးလေ၏။– သူကလည်း၊
ငါရေငတ်သည်၊ ရေအနည်းငယ်ကိုပေးပါဟု
တောင်းလျှင်၊ မိန်းမသည်နွားနို့ဘူးကိုဖွင့်၍
၂၀ တိုက်ပြီးမှ၊ တဖန်ဖုံးလေ၏။– သူကလည်း၊
တဲတံခါး၌နေပါ၊ လူတစုံတယောက်က၊
ယောကျ်ားရှိသလောဟု၊ လာ၍မေးလျှင်၊ မရှိ
၂၁ ကြောင်းကိုပြောလော့ဟုမှာထားလေ၏။– ထိုအ
ခါဟေဗာမယားယေလသည်၊ သိသရမောကျ
အိပ်ပျော်စဉ်တွင်၊ တဲတံသင်တချောင်းနှင့်ထက်
မှိတ်ကိုကိုင်လျက်၊ သူထံသို့တိတ်ဆိတ်စွာသွား
၍ တံသင်ကိုမြေ၌စွဲစေသည်တိုင်အောင်၊ သူ၏
နားပန်းထဲသို့ရိုက်သွင်းသဖြင့်၊ သိသရသည်
၂၂ သေ၏။– ဗာရက်သည်သိသရကိုလိုက်ရှာသော
အခါ၊ ယေလထွက်၍၊ ကျွန်မထံသို့ဝင်ပါ၊ ရှာ
သောသူကိုပြပါမည်ဟုကြိုဆိုလျှင်၊ ဗာရက်
သည်တဲထဲသို့ဝင်၍၊ သိသရသေလျက်၊ နားပန်း
၂၃ ၌တံသင်စူးလျက်ရှိသည်ကိုမြင်လေ၏။– ထိုနေ့
၌ထာဝရဘုရားသည်ခါနာန်ရှင်ဘုရင်ယာဘိန်
ကို၊ ဣသရေလအမျိုးသားတို့ရှေ့မှာနှိမ့်ချတော်
၂၄ မူသဖြင့်၊– သူတို့သည်ထိုရှင်ဘုရင်ကိုမဖျက်ဆီး
မှီတိုင်အောင်၊ အစည်အောင်လျက်နေကြ၏။

၅

၁ ထိုနေ့၌ဒေဗောရနှင့် အဘိနောင်၏သားဗာ
၂ ရက်တို့ဆိုသောသီချင်းစကားဟူမူကား၊– ဣသ
ရေလအမျိုး၌မင်းတို့သည်အဦးပြုသောကြောင့်
၎င်း၊ ဆင်းရဲသားတို့သည် စေတနာစိတ်နှင့်မိမိ
ကိုယ်ကိုလှူသောကြောင့်၎င်း၊ ထာဝရဘုရား၏
၃ ကျေးဇူးတော်ကိုချီးမွမ်းကြလော့။– ဤရှင်ဘု
ရင်တို့၊ ကြားကြလော့။ ဤမင်းသားတို့၊ နား
ထောင်ကြလော့။ ငါသီချင်းဆိုမည်။ ထာဝရ
ဘုရားအားသီချင်းဆိုမည်။ ဣသရေလအမျိုး၏
ဘုရားသခင်ထာဝရဘုရား၏ဂုဏ်ကျေးဇူး
၄ တော်ကိုချီးမွမ်းမည်။– အိုထာဝရဘုရား၊ ကိုယ်
တော်သည်စိရတောင်မှပေါ်မူကြွ၍၊ ဧဒုံတော
မှစ၍ချီတော်မူသောအခါ၊ မြေကြီးလှုပ်၍၊
မိုဃ်းရွာသဖြင့်၊ မိုဃ်းတိမ်တို့မှမိုဃ်းရေသည်
၅ ကျပါ၏။– တောင်မိုးတို့သည်ထာဝရဘုရားရှေ့
တော်၌၎င်း၊ သိနာတောင်သည်လည်း၊ ဣသရေ
လအမျိုး၏ဘုရားသခင်ထာဝရဘုရားရှေ့တော်
၌၎င်းတုန်လှုပ်ပါ၏။
၆ အာနတ်သား၊ ရှံဂါမင်းလက်ထက်၌၎င်း၊ ယေ
လမင်းလက်ထက်၌၎င်း၊ လမ်းမတို့သည်ဆိတ်
ညံလျက်ရှိ၍၊ ခရီးသွားသောသူတို့သည်လမ်း
၇ ကြားတို့၌လိုက်သွားရကြ၏။– ဣသရေလအ
မျိုး၌မင်းလက်ပြတ်လျက်ရှိ၏။ ငါဒေဗောရ
သည်မပေါ်၊ ငါသည်ဣသရေလအမျိုး၌အမိမ
ပေါ်ထွန်းမှီတိုင်အောင်၊ မင်းလက်ပြတ်လျက်ရှိ
၈ ၏။– ဣသရေလအမျိုးသားတို့သည်ဘုရားသစ်
တို့ကိုရွေးယူကြ၏။ ထိုအခါသူတို့မြို့များကိုရန်
သူတို့သည်တိုက်လာကြ၏။ ဣသရေလအမျိုး
သားလေးသောင်းတွင်ဒိုင်းလွှားတခု၊ လှံတစင်း
မျှမရှိ။
၉ စေတနာစိတ်ရှိ၍ဆင်းရဲသားတို့တွင်မိမိ
ကိုယ်ကိုလှူသော၊ ဣသရေလအမျိုးမင်းတို့အား
ငါ့စိတ်နှုးညွတ်၏။ ထာဝရဘုရား၏ကျေးဇူး
၁၀ တော်ကိုချီးမွမ်းကြလော့။– ဖြူသောမြည်းကိုစီး
သောသူ၊ တရားမှုကိုစီရင်သောသူ၊ လမ်း၌သွား
၁၁ သောသူတို့၊– ရေကျင်းများအနားမှာ၊ လေးထိမ်ရ
ဥစ္စာကိုဝေမျှသောသူတို့၏အသံကိုကြားသော
အခါ၊ သီချင်းဆိုကြလော့။ ထာဝရဘုရား၏တ
ရားသောအမှု၊ ဣသရေလမြို့ရွာတို့၌တရား
သဖြင့်ပြုတော်မူသောအမှုတို့ကို၊ ထိုအရပ်တို့
တွင်ချီးမွမ်းကြလိမ့်မည်။ ထိုအခါထာဝရဘုရား
၏လူတို့သည်မိမိတို့နေသောမြို့သို့ပြန်သွားကြ
လိမ့်မည်။
၁၂ နိုးပါ၊ နိုးပါ၊ ဒေဗောရ။ နိုးပါ၊ နိုးပါ၊ သီချင်းဆို
ပါ။ အိုဗာရက်၊ ထပါ၊ အဘိနောင်သား၊ သင်ဖမ်း
၁၃ ဆီးချုပ်ထားသောသူတို့ကိုထုတ်ပြပါ။– ထိုအ
ခါကျန်ကြွင်းသောသူတို့သည်သူရဲကြီးတို့ထံသို့
ဆင်းကြ၏။ ထာဝရဘုရား၏လူတို့သည်၊ အစွမ်း
တန်ခိုးကြီးသောသူတို့ထံသို့၊ ငါ့အဖို့ဆင်းကြ
၁၄ ၏။– အာမလက်လူနေရာအနားမှာနေရာကျ
သောသူတို့သည်၊ ဧဖရိမ်ခရိုင်ထဲကထွက်လာ
ကြ၏။ သူတို့နောက်မှာ၊ သင်၏မိုလ်ခြေတို့တွင်
ဗင်္ယာမိန်အမျိုးသားတို့သည်လိုက်ကြ၏။ မာခိ
ရအမျိုးထဲကမင်းများ၊ ဇာဗုလုန်အမျိုးထဲကစီ
ရင်ဟတ်သောသူများတို့သည်ထွက်လာကြ၏။–
၁၅ ဣသခါမင်းတို့သည်လည်း၊ ဒေဗောရနှင့်ပါ၍၊ ဣ
သခါအမျိုးသည်ဗာရက်၏ထက်ရုံးဖြစ်၏။ ဗာ
ရက်နောက်မှာချိုင့်ထဲသို့ပြေးလိုက်ကြ၏။ ရုဗင်
အမျိုးနေရာချောင်းအသွယ်သွယ်၌စိတ်နှစ်လုံး
၁၆ ပြဋ္ဌာန်းခြင်းများကြ၏။– နောက်တဖန်သင်သည်

သို့မြည်သံကိုနားထောင်ခြင်းငှါ၊ တောင်ကြား မှာအထယ်ကြောင့်ထိုင်နေသနည်း။ ရုဗင်အမျိုး နေရာချောင်း၌ အသွယ်သွယ်၌ စိတ်နှစ်လုံးတွန့်
၁၇ တိုခြင်းများကြသည်တကား။- ဂိလဒ်ပြည်သား တို့သည်ယော်ဒန်မြစ်တဖက်၌ငြိမ်ဝပ်စွာနေကြ ၏၊ ဒန်အမျိုးသည် သင်္ဘောဆိပ်အနားမှာ အ တယ်ကြောင့်နေရစ်သနည်း။ အာရှာအမျိုးသည် ထည်း၊ ပင်လယ်ကမ်းနား၊ သင်္ဘောဆိုက်ရာ ကျွတို့၌ပလျှပ်သဲ၊ ငြိမ်ဝပ်စွာနေသည်တကား။-
၁၈ ဇာဗုလုန်အမျိုးသည် အသက်ကိုစွန့်စားသည် ထိုင်တောင်ရဲရင့်၍၊ နဿလိအမျိုးသည်မြင့် သောတောအရပ်၌ထိုနည်းတူပြု၏။
၁၉ ရှင်ဘုရင်တို့သည် လာ၍စစ်တိုက်ကြ၏၊ ခါန နိရှင်ဘုရင်တို့သည်မေဂိဒ္ဒေါဖိုင်၊ တာနက်မြို့အ နားမှာ တိုက်သော်လည်း၊ ငွေကိုလုယူ၍ မရ
၂၀ ကြ။-ကောင်းကင်မှစစ်ကူကြ၏၊ ကြယ်တို့သည် လှည့်ပတ်စည်အခါ သိသရကိုစစ်တိုက်ကြ၏။-
၂၁ ကိရှုန်မြစ်၊ စစ်မှုကြောင့်ကျော်စောသောမြစ်၊ ကိ ရှုန်မြစ်သည် ရန်သူတို့ကို ပယ်သွား၏၊ အိုငါ၏ ညည်၊ သင်သည် ခွန်အားကြီးသောသူကိုနှိပ်နင်း
၂၂ ပြီ။- ထိုအခါ မြင်းစီးသူရဲတို့သည် မြင်းကိုနှင် လျက်၊ နှင်လျက်စီးသောကြောင့်၊ မြင်းတို့သည် မြေကိုခွာနှင့်ထိမိုတ်လျက်ပြေးကြ၏။
၂၃ မေရောဇမြို့သားတို့သည် ထာဝရဘုရားထက်၊ စစ်သူရဲတို့နှင့်ပိုင်း၍၊ ထာဝရဘုရားထက်သို့မ ကူးကြသောကြောင့်၊ မေရောဇမြို့ကိုကျိန်ကြ လော့။ မြို့သားတို့ကို ပြင်းစွာကျိန်ကြလော့ဟု၊ ထာဝရဘုရား၏ ကောင်းကင်တမန်သည် မှာ ထား၏။
၂၄ ကေနိအမျိုးသားဟေဗာ၏မယားယေလ သည်၊ မိန်းမတကာတို့ထက် မြတ်စွာသောမင်္ဂလာ ရှိ၏၊ ထဲ၌နေသော မိန်းမတကာတို့ထက်မြတ်စွာ
၂၅ သောမင်္ဂလာရှိ၏။- ထိုသူသည်ရေကိုတောင်း၍၊ ယေလသည် နို့ကိုပေး၏၊ မင်းသုံးသောဖလား
၂၆ နှင့်နို့တမ်းကိုဆက်လေ၏။- ထဲတံသင်ကိုယူ၍၊ ထက်ျသက်နှင့်ထက်မိုတ်ကိုကိုင်လျက်၊ သိသ ရကိုရိုက်လေ၏၊ သူ၏ခေါင်းကို ထိုးမိုက်၍၊ နား
၂၇ ပန်းကိုထုတ်ချင်းခွင်းဖောက်လေ၏။- သူသည် ယေလခြေရင်း၌ကျ၍၊ ထဲလျက်တုံးလုံးနေ၏။ ခြေရင်း၌ကျထဲ၍၊ ကျရာအရပ်၌ သေလျက်ထဲ နေ၏။
၂၈ သိသရအမိသည်ပြတင်းပေါက်ဝမြင့်ကြည့် ၍၊ ကုလားကာအတွင်း၌ နေလျက်၊ သူ၏ရထား သည် အဘယ်ကြောင့်လာနဲသနည်း။ ရထား ဘီးတို့သည် အဘယ်ကြောင့်နှေးသနည်းဟု
၂၉ မြည်တမ်းလေ၏။- ပညာရှိသောမင်းသမီးတို့ သည်ပြန်လျှောက်သည်သာမက၊ သူကိုယ်တိုင်
၃၀ ပြန်ပြောသည်ကား။- သူတို့သည်တွေ့၍ရသော ဥစ္စာကိုဝေဖန်လျက် နေကြသည်မဟုတ်လော၊ စစ်သူရဲတို့အား တဦးကညာတယောက်၊ နှစ် ယောက်စီ၊ သိသရအိုပန်းဆိုးသောအဝတ်၊ ပန်း ဆိုး၍ချယ်လှယ်သောအဝတ်တန်ဆာ၊ အောင် သောသူတို့၏လည်ပင်း၌ ဆင်စရာအိုပန်းဆိုး၍ ချယ်လှယ်လျက်အဆင်းအရောင်ထူးခြားသော အဝတ်တန်ဆာကို လုယူ၍ ဝေဖန်လျက်နေကြ သည်မဟုတ်လောဟု၊ သိသရ၏အမိသည်ဆို
၃၁ တတ်၏။- အိုထာဝရဘုရား၊ ကိုယ်တော်၏ရန် သူအပေါင်းတို့သည် ထိုသို့ပျက်စီးခြင်းသို့ရောက် ကြပါစေသော။ ထာဝရဘုရားကို ချစ်သောသူ တို့သည်၊ အရှိန်တန်ခိုးနှင့်ထွက်သွားသောနေ မင်းကဲ့သို့ဖြစ်ပါစေသောဟု သီခြင်းဆိုကြ၏။ ထို နောက်၊ အနှစ်လေးဆယ်ပတ်လုံး တပြည်လုံး ငြိမ်းလေ၏။

၆

၁ တဖန် ဣသရေလအမျိုးသားတို့သည် ထာဝ ရဘုရားရှေ့တော်၌ ဒုစရိုက်ကိုပြုသောကြောင့်၊ သူတို့ကိုမိဒျန်အမျိုးလက်၌ ခုနစ်နှစ်ပတ်လုံး
၂ အပ်တော်မူသဖြင့်၊- မိဒျန်အမျိုးသည် ဣသရေ လအမျိုးကို နိုင်၍ညှဉ်းဆဲသောကြောင့်၊ ဣသ ရေလအမျိုးသားတို့သည်တောင်မြို့၌ခိုင်ခံ့သော
၃ ဥမင်မြေတွင်းတို့ကိုလုပ်ရကြ၏။- ဣသရေလအ မျိုးသည် လယ်လုပ်ပြီးမှ၊ မိဒျန်ပြည်သား၊ နှင့် အာမလက်ပြည်သား၊ အရှေ့ရှိသောအရှေ့ပြည်
၄ သားတို့သည် ရှိလာ၍၊- တပ်ချသဖြင့်၊ ဂါဇမြို့ တိုင်အောင်မြေအသီးအနှံကိုသုတ်သင်ပယ် ရှင်းလျက်၊ စားစရာကို ချန်၍မထား။ ထိုးနွားမြည်
၅ ကိုလည်းချန်၍မထားကြ။- အဘယ်သို့နည်းဟူ မူကား၊ သူတို့သည် တိရိစ္ဆာန်များ၊ ထဲများ ပါ လျက်၊ ကျိုင်းကောင်များပြားသကဲ့သို့၊ သူတို့နှင့် ကုလားအုတ်တို့သည် မရေတွက်နိုင်အောင်များ ပြားသဖြင့်၊ ဣသရေလပြည်ကို ဖျက်ဆီးလျက်
၆ လာကြ၏။- ဣသရေလအမျိုးသားတို့သည် မိ ဒျန်အမျိုးသားတို့ကြောင့်၊ အတွန်ဆင်းရဲ၍၊
၇ ထာဝရဘုရားအားဟာစ်ကြော်ကြ၏။-ထိုသို့မိဒျန်

အမျိုးသားတို့ကြောင့်၊ ထာဝရဘုရားအားအစ်
၈ ကြွေ်ကြသောအခါ၊- ထာဝရဘုရားသည်ပရော
ဖက်တယောက်ကို ဣသရေလအမျိုးသားတို့ထံ
သို့စေလွှတ်တော်မူ၍၊ ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ကျွန်
ခံနေရာအဲဂုတ္တုပြည်မှသင်တို့ကိုငါနှုတ်ဆောင်
၉ ပြီ။- အဲဂုတ္တုပြည်သား လက်မှ၎င်း၊ ညှဉ်းဆဲ
သော သူ အ ပေါင်း တို့ လက် မှ ၎င်း၊ သင် တို့ ကို
ကယ်နှုတ်၍၊ သူတို့ကိုသင်တို့ရှေ့မှနှင်ထုတ်သ
၁၀ ဖြင့်၊ သူတို့ပြည်ကို ပေးပြီ။- ငါသည် သင်တို့၏
ဘုရား သခင် ထာဝရ ဘုရား ဖြစ်၏။ သင် တို့နေ
သောအာမောရိပြည်သားကိုးကွယ်သောဘုရား
တို့ ကို မကြောက် ရွံ့ကြနှင့်ဟု၊ ငါပညတ် သော်
ထည်း၊ သင်တို့သည်ငါ့စကားကိုနားမထောင်ကြ
ဟုမိန့်တော်မူ၏။

၁၁ ထိုနောက် ထာဝရ ဘုရား၏ ကောင်း ကင် တမန်
သည်လာ၍၊ ဩဖရရွာမှာအဗျေဇာအမျိုးသား
ယောရှပိုင်သော သပိတ်ပင်အောက် ၌ ထိုင်လေ
၏။ယောရှသားဂိဒေါင်သည်မိဒျန်လူ
တို့ မ တွေ့စေခြင်းငှါ၊ စပျစ်သီး နယ်ရာ တန်ဆာ
၁၂ အနား မှာ စပါး ကို နယ် လျက် နေ၏။-ထာ ဝရ
ဘုရား၏ကောင်းကင်တမန်သည်ကိုယ်ထင်ရှား
၍၊ ခွန်အားကြီးသောအချင်းသူရဲ၊ ထာဝရဘုရား
၁၃ သည် သင်နှင့် အတူ ရှိတော်မူ၏ ဟု ဆို လျှင်၊- ဂိ
ဒေါင်က၊ အိုသခင်၊ ထာဝရဘုရားသည်အကျွန်ုပ်
တို့နှင့် အတူ ရှိတော် မူ သည်မှန်လျှင်၊ အဘယ်
ကြောင့်ဤအမှုကြီးရောက်ရပါသနည်း။ထာဝရ
ဘုရားသည်ငါတို့ကိုအဲဂုတ္တုပြည်မှနှုတ်ဆောင်
တော်မူသည်မဟုတ်လောဟု၊ အကျွန်ုပ်တို့အဖ
များပြောသည်အတိုင်းပြုတော်မူသော၊ အံ့ဩဖွယ်
သော အမှု ရှိသမျှ တို့သည် အဘယ်မှာ ရှိပါသ
နည်း။ ယခုမှာထာဝရဘုရားသည် အကျွန်ုပ်တို့
ကိုစွန့်၍၊ မိဒျန်လူတို့လက်သို့ အပ်တော် မူပြီတ
၁၄ ကားဟုဆိုလေသော်၊- ထာဝရ ဘုရားသည်သူ
ကိုကြည့်ရှု၍၊ ယခုသင်ရသော တန်ခိုးကို အမှီ
ပြုလျက် သွားလော့။ သင်သည်ဣသရေလအမျိုး
ကို၊ မိဒျန်လူတို့လက်မှကယ်နှုတ်လိမ့်မည်။ သင့်
ကိုငါ စေခိုင်းသည် မဟုတ်လောဟု မိန့်တော်မူ
၁၅ ၏။-ဂိဒေါင်ကလည်း၊ အိုသခင်၊ အကျွန်ုပ်သည်
ဣသရေလ အမျိုးကို အဘယ်သို့ ကယ်နှုတ် နိုင်
ပါမည်နည်း။အကျွန်ုပ်အဆွေအမျိုးသည်၊ မနာ
ရှေအမျိုး၌ သာ ၍ ဆင်းရဲပါ၏။ အကျွန်ုပ်သည်

ထည်း၊ ကိုယ်အဆွေအမျိုး၌ အယုတ်ဆုံးသော
၁၆ သူဖြစ်ပါ၏ဟု လျှောက် လျှင်၊- ထာဝရ ဘုရား
က၊ အကယ်စင်စစ် ငါသည် သင်နှင့်အတူ ရှိသ
ဖြင့်၊ သင်သည် လူတယောက်ကို လုပ် ကြံသကဲ့
သို့၊ မိဒျန်လူတို့ကို လုပ်ကြံလိမ့်မည်ဟု မိန့်တော်
၁၇ မူ၏။-ဂိဒေါင်ကလည်း၊ အကျွန်ုပ်သည်ရှေ့တော်
၌ မျက် နှာ ရပါ လျှင်၊ အကျွန်ုပ် နှင့် ယခု နှုတ်
ဆက်တော်မူကြောင်းထင်ရှားသောနိမိတ်လက္ခ
၁၈ ဏာကိုပြတော်မူပါ။-အကျွန်ုပ်သည်တဖန်လာ
ပြန်၍၊ ဘောဇဉ်ပူဇော်သကာကို ဆောင်ခဲ့သ
ဖြင့်၊ ကိုယ်တော်ရှေ့၌ မတင်မှီတိုင်အောင်၊ ဤအ
ရပ်ကကြွသွားတော် မ မူပါ နှင့် ဟု တောင်းပန်
လျှင်၊ သင်သည်ပြန်၍မလာမှီတိုင်အောင်ငါနေ
၁၉ မည်ဟု မိန့် တော် မူ၏။- ဂိဒေါင် သည် သွား၍၊
ဆိတ်သငယ်တကောင်ကို၎င်း၊ ရှိန်ညက်တဧဖာ
နှင့် လုပ်သော တဆေးမဲ့ မုန့်ပြား တို့ကို ၎င်း ဖျင်
ဆင် လေ ၏။ ဆိတ် သား ကို တောင်း၌ ထည့်၍၊
ဆိတ် သား ပြုတ် ရည် ကို အိုး ၌ ထောင်း ပြီး မှ၊
ကောင်းကင် တမန် ရှိရာ သပိတ်ပင် အောက် သို့
၂၀ ဆောင် ခဲ့ ၍ဆက် လေ ၏။- ထာ ဝ ရ ဘု ရား ၏
ကောင်း ကင် တမန် ကလည်း၊ အမဲသား နှင့် တ
ဆေးမဲ့မုန့်ပြားတို့ကို ယူ၍၊ ဤကျောက် ပေါ်မှာ
တင် ထားလော့။ အမဲ သား ပြုတ် ရည်ကို သွန်း
လောင်း လော့ဟု ဆိုလျှင်၊ ဆိုသည် အတိုင်း ဂိ
၂၁ ဒေါင်သည်ပြုလေ၏။- ထိုအခါထာဝရဘုရား၏
ကောင်းကင် တမန်သည် မိမိ ကိုင်သော တောင်
ဝေးကိုဆန့်၍၊ အမဲသားနှင့် တဆေးမဲ့ မုန့်ပြား
တို့ကို ထိုသဖြင့်၊ ကျောက်ထဲ က မီး ထ၍၊ အမဲ
သားနှင့် တဆေးမဲ့ မုန့်ပြားတို့ကို လောင် ပြီးမှ၊
ထာဝရဘုရား၏ ကောင်းကင်တမန်သည်ကွယ်
၂၂ လေ၏။-ထာဝရဘုရား၏ကောင်းကင်တမန်ဖြစ်
သည်ကိုဂိဒေါင်သည်သိမြင်သောအခါ၊ အိုအရှင်
ထာဝရဘုရား၊ အကျွန်ုပ်သည်ထာဝရဘုရား၏
ကောင်းကင်တမန်ကိုမျက်နှာချင်းဆိုင်၍ မြင်ရ
၂၃ ပါပြီတကားဟုလျှောက်သော်၊- ထာဝရဘုရား
က၊ ချမ်းသာပါစေ။ မစိုးရိမ်နှင့်။ သင်သည် သေ
ဘေးနှင့်လွတ်လျက်ရှိသည်ဟု မိန့်တော် မူ၏။-
၂၄ ထိုအရပ်၌ဂိဒေါင်သည်ထာဝရဘုရားအဖို့ယဇ်
ပလ္လင်ကိုတည်၍၊ ယေဟောဝါရှာလုံ အမည်ဖြင့်
မှည့်လေ၏။ အဗျေဇာသား၏ နေရာဩဖရရွာ၌
ယနေ့တိုင်အောင်ရှိသတည်း။

၂၅ ထိုနေ့ညမှာထာဝရဘုရားက၊ သင့်အဘ၏နွား

ပိုက်နှင့် အသက် ခုနစ်နှစ် ရှိသော ဒုတိယ နွားထီးကိုယူပြီးလျှင်၊ သင့် အဖ တည်သော ဗာလဘုရား၏ယဇ်ပလ္လင်ကို ဖြိုဖျက်၍၊ ယဇ်ပလ္လင်အနားမှာ ရှိသော အာရှရ ပင် ကို ခုတ် လှည်း
၂၆ လော့။- ငါ့စီရင်သည်အတိုင်း၊ ဤကျောက်ပေါ်မှာထာဝရဘုရား၊အဖို့ ယဇ်ပလ္လင်ကို တည်ပြီးလျှင်၊ ခုတ်လှည်းသောသစ်သားဖြင့်ဒုတိယနွား
၂၇ ကိုမီးရှို့၍ယဇ်ပူဇော်လော့ဟုမိန့်တော်မူ၏။-ဂိဒေါင်လည်း မိမိ ကျွန် ဆယ် ယောက် တို့ကို ခေါ်၍၊ထာဝရဘုရားမိန့်တော်မူသည်အတိုင်းပြုလေ၏။ မိမိအဖ၏ အိမ်သားတို့ကိုငှင်၊ မြို့သားတို့ကိုငှင်ကြောက်၍၊ နေ့အချိန်၌ မပြုဝံ့သောကြောင့်၊
၂၈ ညည့်အချိန်၌ပြု၏။- နံနက်စောစော မြို့သားတို့သည် ထ ကြ သော အခါ၊ ဗာလဘုရား၏ ယဇ်ပလ္လင်သည်ပြိုဖျက်လျက်၊အနားမှာရှိသောအာရှရပင်လည်းလဲလျက်၊ နောက်တည်သောယဇ်ပလ္လင်ပေါ်မှာဒုတိယနွားထီးကို ပူဇော်လျက်ရှိ
၂၉ သည်ကိုတွေ့ကြလျှင်၊- ဤအမှုကိုအဘယ်သူပြုသနည်းဟု၊ တယောက်ကို တယောက်မေးမြန်းစစ်ကြောလျှင်၊ဤအမှုကိုယောရှသားဂိဒေါင်ပြု
၃၀ ပြီဟု၊လူအချို့တို့သည် ဆိုကြ၏။-ထိုအခါမြို့သားတို့သည်ယောရှအား၊ သင် ၏ သားသည် ဗာလဘုရား၏ ယဇ်ပလ္လင်ကို ဖြိုဖျက်၍၊ အနားမှာရှိသောအာရှရပင်ကိုခုတ်လှည်းသောကြောင့်၊သူကို အသေ ခံ စေခြင်းငှါ ထုတ်လော့ဟု ဆိုသော်
၃၁ လည်း။- ယောရှ သည် တဖက်၌ နေသော သူအပေါင်းတို့အား၊ သင်တို့သည် ဗာလ ဘုရားအတွက်၌ အမှု စောင့် မည် လော၊ သူကို ကယ် တင်မည်လော၊သူ့အတွက်၌အမှုစောင့်သောသူသည်၊နံနက်မလွန်မှီအသေခံ ပါ လေစေ၊ဗာလသည် ဘုရားမှန်လျှင်၊ သူ၏ယဇ်ပလ္လင်ကို တစုံ တယောက် ဖြိုဖျက် သောကြောင့်၊ မိမိအမှုကို မိမိစောင့်ပါ
၃၂ လေစေဟုပြန်ပြော၏။-ထိုသို့ဗာလဘုရားသည်၊ သူ ၏ ယဇ် ပလ္လင် ကို တစုံ တ ယောက် ဖြို ဖျက် သောကြောင့်၊ထိုသူတဖက်မိမိအမှုကိုမိမိစောင့် ပါ လေ စေဟု ဆို လျက်၊သူ ၏ သားကို ထို နေ့၌ ယေရုဗ္ဗာလ အမည်ဖြင့်မှည့်သတည်း။
၃၃ ထိုအခါမိဒျန်ပြည်သား၊ အာမလက်ပြည်သား၊ အရှေ့ပြည်သားအပေါင်းတို့သည် စည်းဝေးသဖြင့်၊ ယေဇရေလ ချိုင့်သို့ ကူးသွား၍ တပ်ချကြ
၃၄ ၏။-ထာဝရဘုရား၏ ဝိညာဉ်တော်သည်ဂိဒေါင်အပေါ်မှာသက်ရောက်၍၊သူသည်တံပိုးမှုတ်သ
၃၅ ဖြင့် အဗျေဇာသား တို့သည်လိုက်ကြ၏။- တမန်တို့ကိုမနာရှေခရိုင်တရှောက်လုံးသို့ စေလွှတ်၍၊ မနာရှေအမျိုးသား တို့သည် လိုက် ကြ၏။ တဖန် အာရှာ ခရိုင်၊ ဇာဗုလုန်ခရိုင်၊ နဿလိ ခရိုင်သို့ တမန် တို့ကို စေလွှတ်၍၊ ထိုခရိုင် သား တို့ သည် လည်း၊ စုဝေးရာသို့လာကြ၏။
၃၆ ဂိဒေါင် သည်လည်း ဘုရားသခင်အား၊ ကိုယ်တော်သည် မိန့်တော်မူသည် အတိုင်း၊ ဣသရေလအမျိုးကို အကျွန်ုပ်အားဖြင့် ကယ်တင်တော်
၃၇ မူမည်မှန်လျှင်၊- အကျွန်ုပ်သည်သိုးတကောင်၏ အမွေးကိုတလင်း၌ထားပါမည်။ သိုးမွေးသည် နှင်းစို၍ မြေ တပြင်လုံး သွေ့ခြောက် လျှင်၊ မိန့်တော်မူသည် အတိုင်း၊ ဣသရေလ အမျိုးကို အကျွန်ုပ် အား ဖြင့် ကယ် တင် တော် မူ မည်ကို အကျွန်ုပ်သိပါမည် ဟု လျှောက် သည် အ
၃၈ တိုင်းဖြစ်လေ၏။- နံ နက်စောစောထ၍၊ သိုးမွေးကိုညှစ်သဖြင့် နှင်းရည်သည် အင်တုံအပြည့်ရှိ
၃၉ လေ၏။- တဖန်ဂိဒေါင်က၊ အမျက်ထွက်တော်မမူပါနှင့်။ တကြိမ်သာလျှောက်ပါဦးမည်။သိုးတကောင် ၏ အမွေးနှင့် ယခု တကြိမ် သာ စုံစမ်းရသော အခွင့်ကို ပေး တော် မူပါ။ မြေ တ ပြင် လုံးသည် နှင်း စို၍၊ သိုးမွေး သွေ့ခြောက် ပါ စေဟု၊ ဘုရား သခင် အား လျှောက် သည် အ
၄၀ တိုင်း၊-ထိုညည့်၌လည်း ဘုရားသခင်ပြုတော်မူသဖြင့်၊မြေတပြင်လုံးသည်နှင်းစို၍၊သိုးမွေးသွေ့ခြောက်လျက်ရှိ၏။

၇

၁ ယေရုဗ္ဗာလအမည်ဖြင့်ခေါ်ဝေါ်သောဂိဒေါင်သည်နံနက်စောစောထ၍၊ရှိသမျှသောသူတို့နှင့်တကွ ဟာရုတ် ရေတွင်း နားမှာ တပ်ချသဖြင့်၊မိဒျန်တပ်သည်မြောက်ဘက်၊ မောရေ တောင်ခြေ
၂ ရင်း၊ ချိုင့်၌ရှိ၏။-ထာဝရဘုရားကလည်း၊ သင်၌ပါသောလူတို့သည်အလွန်များ၍၊သူတို့လက်၌မိဒျန်လူတို့ကိုငါမအပ်ရ။အပ်လျှင်၊ဣသရေလအမျိုးက၊ငါ့လက်ရုံးသည်ငါ့ကိုကယ်တင်ပြီဟု၊ငါ
၃ တဖက်၌ဝါကြွားလိမ့်မည်။- သို့ဖြစ်၍၊ကြောက်လန့်သောသူမည်သည်ကား၊ဂိလဒ်တောင်မှစောစောပြန်သွားစေဟု၊ လူများတို့အား၊ထစ်ကြော်လော့ဟု၊ ဂိဒေါင်အားမိန့်တော်မူသဖြင့်၊ လူနှစ်သောင်းနှစ်ထောင်ပြန်သွား၍၊ တသောင်းကျန်
၄ ရစ်၏။- တဖန် ထာဝရဘုရား က လည်း၊ လူတို့သည် အလွန် များ သေး၏။ ရေဆိပ်သို့ ခေါ်ခဲ့

သော့။ သူတို့ကို ရေဆိပ် မှာ သင့်အဖို့ ငါ စုံစမ်း
မည်။ ထိုအခါ ဤမည်သောသူသည် သင်နှင့်အ
တူ သွားရမည်ဟု ငါဆိုလျှင်၊ ထိုသူသည် သွား
ရမည်။ ဤမည်သော သူ မသွားရဟု ငါဆိုလျှင်၊
ထိုသူသည် မသွားရဟုမိန့်တော်မူသည့်အတိုင်း၊၊-
၅ ဂိဒေါင်သည် လူတို့ကို ရေဆိပ်သို့ခေါ် ခဲ့၍၊ထာ
ဝရဘုရားက၊ ခွေးသည်ရေကိုလျက်၍ သောက်
သကဲ့သို့၊လျှာနှင့်လျက်၍ သောက် သောသူတ
ရှု၊ ဒူးထောက်လျက်ဝပ်၍ သောက် သော သူတ
ရှု၊ ထို လူ နှစ်စုကို ခွဲထားလော့ဟု၊ ဂိဒေါင်အား
၆ မိန့်တော်မူ၏။- ထိုအခါ မိမိလက်စုပ်နှင့် ရေကို
ယူသဖြင့် လျက် ၍သောက်သောသူသုံးရာရှိ၏။
ကြွင်း သော သူ အပေါင်း တို့ သည်၊ ရေသောက်
၇ ခြင်းငှါဒူးထောက်၍ဝပ်ကြ၏။- ထာဝရ ဘုရား
ကလည်း၊လျက်၍သောက်သောသူသုံးရာအား
ဖြင့်သင့်ကိုငါကယ်တင်၍၊ မိဒျန်လူတို့ ကို သင့်
လက်၌အပ်မည်။ကြွင်းသောသူတို့ကို၊မိမိနေရာ
၈ သို့ပြန်သွားစေဟုဂိဒေါင်အားမိန့်တော်မူ၏။-ထို
သူတို့သည် စား စရိတ် နှင့် တံပိုး များကို ယူ၍၊
ကြွင်းသော ဣသရေလ အမျိုးသား အပေါင်းတို့
ကို မိမိနေရာသို့ ဂိဒေါင်သည် လွှတ်လိုက်သဖြင့်၊
ထို သုံး ရာသော လူတို့ကိုသာ မိမိ နှင့် အတူ ချန်
ထားလေ၏။ မိဒျန်လူတို့သည် သုအောက်၊ ချိုင့်
၌တပ်ချလျက်ရှိကြ၏။
၉ ထိုညဉ့်တွင်ထာဝရဘုရားက၊ ထလော့၊ရန်
သူတပ်ချရာသို့ဆင်းသွားလော့၊သင့်လက်၌ငါအပ်
၁၀ မည်။-မရဲဝံ့လျှင်၊ သင်၏ကျွန် ဖုရကို ရှေ့ဦးစွာ
၁၁ ခေါ်သွားလော့၊- သူတို့သည် အဘယ်သို့ ပြော
သည်ကိုကြားထိမ့်မည်။ ထိုနောက်မှ၊တပ်ချရာ
သို့ဆင်းသွားခြင်းငှါ၊သင့် လက်အား ကြီးလိမ့်မည်
ဟုမိန့်တော် မူ သည် အတိုင်း၊ဂိဒေါင် သည် မိမိ
ကျွန်ဖုရကိုခေါ်၍၊ရန်သူ ၏ တပ်ပြင်၌ ကင်းထိုး
၁၂ သောသူရှိရာသို့ သွားလေ၏။- မိဒျန်ပြည်သား၊
အာမလက်ပြည်သား၊အရှေ့ပြည်သားအပေါင်း
တို့သည်ချိုင့်၌အိပ်လျက်၊ကျိုင်းကောင်နှင့်အမျှ
များကြ၏။ကုလားအုတ်တို့သည်လည်း၊ သမုဒ္ဒ
၁၃ ရာ သဲလုံး နှင့် အမျှ အတိုင်း မသိ များကြ၏၊-ဂိ
ဒေါင်သည် ရောက်သော အခါ၊ လူတ ယောက်
သည် မိမိမြင်မက်သော အိပ်မက်ကို မိမိအပေါင်း
အဖော်အားပြန်ပြောသည်မှာ၊ ငါမြင်မက်သည်
ကား၊ မုယောမုန့် တပြားသည် မိဒျန်တပ်ထဲသို့
ထိမ့်၍၊ထဲထားဆောင်ကိုတွေ့လျှင်၊ထိမိုက်မှောက်
၁၄ လှန် ဖြိုချလေ၏ဟု ဆိုသော်၊- သူ၏ အပေါင်းအ
ဖော်က၊ ထိုမုန့်ပြားသည် အခြား မဟုတ်၊ ဣသ
ရေလအမျိုး၊ယောရှသား၊ဂိဒေါင် ၏ ထားဖြစ်၏။
ထိုသူလက်၌ဘုရားသခင်သည်မိဒျန်အမျိုး၊မိဒျန်
မိုလ်ခြေ အပေါင်း ကို အပ်တော် မူ မည်ဟု ပြန်
၁၅ ပြော၏။-ထိုအိပ်မက်နှင့်အိပ်မက်အနက်ကိုဂိဒေါင်
သည် ကြားသောအခါ၊ ကိုးကွယ်၍ ဣသရေလ
တပ်သို့ပြန်ပြီးလျှင်၊ထကြ၊ ထာဝရဘုရား သည်
မိဒျန် ဗိုလ် ခြေတို့ကို သင်တို့ လက်၌ အပ်တော် မူ
မည်ဟုဆို၏။
၁၆ ထိုအခါ လူသုံး ရာ တို့ကို သုံးစုခွဲ၍၊ တံပိုး တ
လုံးနှင့် မီးခွက်ပါသော အိုး တလုံးစီကို လူတိုင်း
၁၇ လက်၌ ဆောင်စေ၏။- ငါ့ကိုကြည့်၍၊ငါပြုသည်
အတိုင်းပြုကြ၊တပ်ပြင်သို့ရောက်သောအခါ၊ငါ
၁၈ ပြုသည် အတိုင်း ပြုကြ။-ငါနှင့် ငါ၌ ပါသောသူ
အပေါင်း တို့သည် တံပိုး မှုတ် သော အခါ၊ တပ်
ပတ်လည် အရပ်ရပ်၌ သင်တို့သည် တံပိုး မှုတ်
၍၊ ထာဝရဘုရားနှင့်ဂိဒေါင် ၏ ထားဟုတစ်ကြ
၁၉ လော့ ဟု မှာထား၏။- ထိုသို့ ဂိဒေါင်နှင့် သူ၌ပါ
သော လူ တရာတို့သည် သန်းခေါင်ယံ၌ ကင်းထဲ
စက တပ်ပြင်သို့ ရောက်သဖြင့်၊တံပိုးမှုတ်ကြ၏။
၂၀ မိမိကိုင်သော အိုးတို့ကိုလည်းခွဲကြ၏။- လူသုံးစု
တို့သည်တံပိုးမှုတ်၍၊အိုး တို့ကို ခွဲသဖြင့် ထက်
ဝဲလက်၌ မီးခွက်တို့ကိုင်၊လက်ျာလက်၌ မှုတ်
စရာ တံပိုးတို့ကိုင် ကိုင် လျက်၊ ထာဝရ ဘုရား
၂၁ နှင့် ဂိဒေါင် ၏ ထားဟု ဟစ် ကြ၏။- သူတို့ သည်
တပ် ပတ် ဝန်း ကျင် ၌၊ လူ တိုင်း မိမိနေရာအရပ်
တွင်ရပ်နေ၍၊ တပ်သား အပေါင်းတို့သည် ပြေး
၂၂ လျက်၊ အော်လျက် ထွက်ပြေးကြ၏။- လူသုံးရာ
တို့သည် တံပိုး မှုတ်သောအခါ၊ ထာဝရဘုရား
၏တန် ခိုး တော်ကြောင့်၊ တပ်သား အပေါင်း တို့
သည် တယောက်ကို တယောက်တိုက်၍၊ ဇေရ
ရတ်အရပ်ဗက် ရှိတ္တ မြို့သို့၎င်း၊ တဗ္ဗတ် မြို့နားမှာ
အာဗေလမဟောလ မြို့ နယ်သို့၎င်း ပြေးကြ၏။-
၂၃ ဣသရေလလူတို့သည် နဿလိ ခရိုင်၊ အာရှာခ
ရိုင်၊ မနာရှေခရိုင်အရပ်ရပ်ထဲက စုလာ၍၊ မိဒျန်
၂၄ လူတို့ကိုလိုက်ကြ၏။-ဂိဒေါင်သည်လည်း၊တမန်
တို့ကို ဧဖရိမ်တောင် တရှောက်လုံးသို့ စေလွှတ်
၍၊ သင်တို့သည် မိဒျန်လူတို့ကို ဆီးတားခြင်းငှါ
ယော်ဒန် မြစ်နား၊ ဗက်ဗာရရွာ တိုင်အောင် သူ
တို့အရင်စောင့်နေကြလော့ဟုမှာလိုက်သည်အ
တိုင်း၊ ဧဖရိမ် လူအ ပေါင်း တို့သည် စုဝေး ၍၊

ယော်ဒန်မြစ်နာ၊ မတ်မာရရွာထိုင် ဆောင်
၂၅ ဆောင်၍နေကြ၏။– မိဒျန်မိုလ်ချုပ်နှစ်ယောက်၊ဩ
ရပ်နှင့်ဇေဗ်ကိုဖမ်းဆီး၍၊ ဩရပ်ကိုဩရပ်
ကျောက် ပေါ်၌ ငင်၊ ဇေဗ် ကို ဇေဗ် စပျစ် သီး
နယ်ရာတန်ဆာ၌ ငင် သတ် ပြီးမှ၊ မိဒျန် လူတို့ကို
လိုက် သဖြင့်၊ ဩရပ် ၏ ဦးခေါင်း နှင့် ဇေဗ်၏
ဦးခေါင်းတို့ကို ယော်ဒန်မြစ်တဘက်၊ ဂိဒေါင်ထံ
သို့ဆောင်ခဲ့ကြ၏။

## ၈

၁ ဧဖရိမ်လူတို့က၊သင်သည်မိဒျန်လူတို့ကိုတိုက်
သွားသော အခါ၊ ငါတို့ကို မခေါ်ဘဲ ငါတို့၌ အ
ဘယ်သို့ပြုသနည်းဟု၊ကြပ်ကြပ်အပြစ်တင်ကြ
၂ ၏။–ဂိဒေါင်ကလည်း၊သင်တို့ပြုသကဲ့သို့ငါသည်
အဘယ်သို့ ပြု ပြီး သနည်း၊ အဗျေဇာ စပျစ်သီး
သိမ်းခြင်း ထက်၊ ဧဖရိမ် လိုက် ကောက် ခြင်း
၃ သည်သာ၍ကောင်းသည်မဟုတ်လော။–ဘုရား
သခင်သည်မိဒျန်မိုလ်ချုပ် ဩရပ်နှင့်ဇေဗ်တို့
ကိုသင်တို့ လက် ၌ အပ်တော်မူပြီ၊ သင်တို့ ပြုသ
ကဲ့သို့၊ငါသည်အဘယ်သို့ ပြုနိုင်သနည်းဟု ပြန်
ပြောသောစကားကို သူတို့သည် ကြားသောအ
ခါမိတ်ပြေကြ၏။
၄ ဂိဒေါင်သည်ယော်ဒန်မြစ်သို့ ရောက်သောအ
ခါ၊ သူ၌ရှိသောသူသုံးရာတို့သည် ပင်ပန်းလျှက်
၅ နှင့်ကူး၍ လိုက်ကြ၏။–သုကုတ်မြို့သားတို့အား
သည်း၊ ငါနောက်လိုက်သော သူတို့အား မုန့်ကို
ပေး ကြပါလော့၊ သူတို့သည် ပင်ပန်း ကြပြီ၊ ငါ
သည် မိဒျန်မင်းကြီး ဇေဗာ နှင့် ဇာလမုန္န ကို
၆ လစ်လိုက်ရှာပါ၏ဟုတောင်းသော်လည်း။– သု
ကုတ် မင်းတို့က၊ ငါတို့သည် သင့် အမှုထမ်း တို့
အားမုန့်ကိုပေးရမည်အကြောင်း၊ ဇေဗာ နှင့်
ဇာလမုန္န သည် သင့်လက်၌ ရှိသ လောဟု ပြန်
၇ ပြောကြ၏။–ဂိဒေါင်ကလည်း၊သို့ဖြစ်၍ထာဝရ
ဘုရားသည်ဇေဗာနှင့်ဇာလမုန္နတို့ကိုငါ့လက်
၌ အပ် တော် မူ သော အ ခါ၊ သင် တို့ ကြော ကို
တောဆူးပင်အမျိုးမျိုးနှင့်ငါမိုက်မည်ဟု
၈ ဆိုပြီးလျှင်၊–ထိုအရပ်ကပေနွေလမြို့သို့သွား၍၊
သူတို့အားထိုနည်းတူ တောင်းသော်လည်း၊ သု
ကုတ်မြို့သားတို့ ပြန်ပြောသည့် နည်းတူ၊ပေနွေ
၉ လမြို့သား တို့ သည် ပြန်ပြောကြ၏။–ဂိဒေါင် က
လည်း၊ ငါသည် ငြိမ် ဝပ် စွာ လာ သော
အခါ၊ ဤရဲတိုက် ကို ဖြိုဖျက်မည်ဟု သူတို့အား
ဆို၏။

၁၀ ထိုအခါ ဓား ကိုင် သော လူ တ သိန်း နှစ်
သောင်းသေသောကြောင့်၊အရှေ့မျက်နှာအရပ်
သား အပေါင်းတို့ တွင် ကျန် ကြွင်း သော လူ တ
သောင်းငါးထောင်ခန့်မျှသာပါလျှက်၊ဇေဗာ
၁၁ နှင့်ဇာလမုန္နတို့သည်ကာရကော်မြို့၌ ရှိကြ၏။–ဂိ
ဒေါင်သည်နောဗာမြို့၊ယော့ဗေဟာမြို့အရှေ့၊ တဲ၌နေ
သူတို့လမ်းဖြင့်ရှိသွား၍၊ မရိုးရိမ်ဘဲနေသောသိ
၁၂ ချီတပ်ကိုလုပ်ကြံသဖြင့်၊–မိဒျန်မင်းကြီးဇေဗ
ာနှင့် ဇာလမုန္န ပြေးသောအခါ၊ ဂိဒေါင် သည်
၁၃ လိုက်၍တပ်ကိုရှုတ်သော၏။–ယောရှသားဂိဒေါင်
၁၄ သည်၊ နေမထွက်မီစစ်တိုက်ရာမှပြန်လာ၍၊–သု
ကုတ်မြို့သားလုလင်တယောက်ကိုဖမ်းမိ၍မေး
စစ်လျှင်၊ထိုသူသည်သုကုတ်မြို့အရာရှိ၊အသက်
ကြီးသူခုနစ်ဆယ် ခုနစ်ယောက်တို့၏အမည် အ
၁၅ သီးအသီးတို့ကိုပြောလေ၏။–ဂိဒေါင်သည်သွား၍၊
သုကုတ်မြို့သားတို့ရှိရာသို့လာ၍၊သင်တို့ကပင်
ပန်းသော သင့်အမှုထမ်းတို့အား ငါတို့သည်မုန့်
ကိုပေးရမည် အကြောင်း၊ ဇေဗာ နှင့် ဇာလ
မုန္နသည်သင့်လက်၌ရှိသလောဟု ငါ့ကိုကဲ့ရဲ့၍၊
သင် တို့ ပြော သော ဇေဗာ နှင့် ဇာလမုန္န ကို
၁၆ ကြည့်ကြလော့ဟု ဆိုလျှက်၊– ထိုမြို့၌ အသက်
ကြီးသူတို့ကို ခေါ်၍၊ တောဆူးပင်အမျိုးမျိုးနှင့်
၁၇ သုကုတ်မြို့သားတို့ကိုဆုံးမလေ၏။– ပေနွေလမြို့
ရဲတိုက် ကို လည်းဖြိုဖျက်၍၊ မြို့သားတို့ကိုကွပ်
၁၈ မျက်လေ၏။– ထိုအခါဇေဗာနှင့်ဇာလမုန္နတို့
အား၊တာဗော်မြို့မှာ သင်တို့ သတ်ခဲ့သော သူတို့
သည် အဘယ်သို့သောသူဖြစ်သနည်းဟုမေးမြန်း
သော်၊ထိုသူတို့က၊ကိုယ်တော်ဖြစ်သကဲ့သို့ထိုသူ
မှိသမျှသည်ဖြစ်၍၊ ရှင်ဘုရင်သား၏အဆင်းအ
၁၉ ရောင် နှင့် ပြည့် စုံကြပါ၏ ဟုပြန်ပြော သော်၊–ဂိ
ဒေါင်က၊ ထိုသူတို့သည်ငါ့အမိ၏သား၊ ငါ့ညီဖြစ်
ပါသည်တကား၊ထာဝရဘုရားအသက်ရှင်တော်
မူသည်အတိုင်း၊ သင်တို့သည်သူတို့ကိုအသက်
ရှင်၍ထားပေးမိလျှင်၊ သင်တို့ကို ငါမသတ်ဘဲနေ
၂၀ ထိမ့်မည်ဟု၊– မိမိသားဦးယေသာအား ဤသူ
တို့ကိုထ၍ သတ်လော့ဟုဆိုသော်လည်း၊ သား
သည်အသက် အရွယ် ငယ်သေးသောကြောင့်၊ ဓား
၂၁ ကိုမဆွဲမထုတ်ဘဲနေ၏။–ဇေဗာ နှင့် ဇာလမုန္န
တို့ က လည်း၊ ကိုယ်တော် ထ၍၊ ငါတို့ကို
လုပ်ကြံလော့၊ လူဖြစ်သကဲ့သို့ လူအစွမ်း သတ္တိ
ဖြစ်တတ်သည် ဟုဆိုလျှင်၊ ဂိဒေါင်သည် ထ၍၊
ဇေဗာနှင့်ဇာလမုန္နကိုသတ်သဖြင့်၊ သူတို့၏လ

ထားရှုတ်၏ ထည်ပင်း၌ ဆွဲသောတန်ဆာတို့
ကိုနှုတ်ယူလေ၏။
၂၂ ထိုအခါ ဣသရေလလူတို့က၊ ကိုယ်တော်သည်
အကျွန်ုပ်တို့ကို မိဒျန်လူတို့ လက်မှ ကယ်နှုတ်
သောကြောင့်၊ သား၊ မြေးဆက်နှင့် တကွ အ
ကျွန်ုပ်တို့ကိုအုပ်စိုးတော်မူပါ၊ ဂိဒေါင်အား
၂၃ လျှောက်ဆိုကြသော်၊– ဂိဒေါင်က၊ ငါသည်သင်
တို့ကိုမအုပ်စိုးရ၊ ငါ့သားသည်းမအုပ်စိုးရ၊ ထာ
ဝရဘုရားသည် သင်တို့ကို အုပ်စိုးတော်မူရ၏
၂၄ ဟူ၍၎င်း၊– သို့ရာတွင်၊ သင်တို့ရှိသမျှသည်လုယူ
၍ ရသော နား တောင်းတို့ကို ပေး ပါ မည် အ
ကြောင်း၊၊ ငါတောင်းချင်သည်ဟူ၍ ၎င်းဆိုလေ
၏၊ ရန်သူတို့သည် ဣရှမေလအမျိုးဖြစ်၍၊ ရွှေနား
၂၅ တောင်းကို ဆင် တတ် ကြသ တည်း၊– သူတို့ က
လည်း၊ စင်စစ်ပေးပါမည်ဟုဆိုလျက်၊ ဖောင်ကို
ခင်း၍၊ လူ အပေါင်း တို့ သည် မိမိ တို့ လု ယူ၍ ရ
၂၆ သောနားတောင်းများကို ချထားကြ၏၊–ဂိဒေါင်
တောင်း သော ရွှေနား တောင်းများ အချိန်ကား၊
အ ခွက် တ ဆယ် ခုနှစ်ပိဿာ ရှိ၏၊ ထိုမှတပါး၊
မိဒျန်မင်းကြီး ဝတ်ဆင်သောတန်ဆာ၊ ထည်ဆွဲ၊
နီမောင်းသော အဝတ်၊ ကုလားအုတ်လည်ကြိုး
၂၇ များ ကို ရသေး၏၊– ထိုတန် ဆာ တို့ နှင့် ဂိဒေါင်
သည်သင်တိုင်းတော်ကိုလုပ်၍၊ မိမိနေရာဩဖရ
မြို့မှာ ထား သ ဖြင့်၊ ဣသရေလ အမျိုးသား အ
ပေါင်းတို့သည်၊ ထိုသင်တိုင်းတော်နှင့် မှားယွင်း
လျှက် သွား တတ် ကြ၏၊ ထို အမှု သည် ဂိဒေါင်
နှင့် သူ၏ အမျိုး ဖြစ် မှားရာ အကြောင်း ဖြစ် သ
၂၈ တည်း၊– ထိုသို့ မိဒျန်အမျိုးသည် ဣသရေလ အ
မျိုးရှေ့မှာရှုံး၍၊ နောက်တဖန်အစိုးမရသဲနေကြ
၏၊ ဂိဒေါင် ထက် ထက် အ နှစ် လေး ဆယ် တိုင်
၂၉ တိုင် တပြည်လုံးငြိမ်းလေ၏၊– ယောရှသားယေ
ရုဗ္ဗာလသည် မိမိအိမ်သို့သွား၍နေသတည်း၊
၃၀ ဂိဒေါင်သည်မယားများ၍၊ ကိုယ်ရသောသား
၃၁ ခုနှစ်ဆယ်ရှိ၏၊–ရှေခင်မြို့၌နေသောမယားငယ်
သည်သားယောက်ျားကိုဖွားမြင်၍၊ ထိုသားကို
၃၂ အဘိမလက် အမည် မြင့် မှည့် လေ၏၊– ယောရှ
သား ဂိဒေါင်သည်အသက်ကြီးရင့်သော်၊ အနိုး
ရောက်၍၊ အဗျေဇာသား နေရာဩဖရမြို့မှာ၊ အ
ဖယောရှသင်းချိုင်း၌ သင်းဂြိုဟ်ခြင်းကိုခံရလေ
၃၃ ၏၊–ဂိဒေါင်သေ သော အခါ၊ ဣသရေလ အမျိုး
သားတို့သည်ဖောက်ပြန်၍၊ ဗာလဘုရားတို့နှင့်
မှားယွင်းသဖြင့်၊ ဗာလဗေရိတ်ကို ဘုရားအရာ
၃၄ ၌ချီးမြှောက်ကြ၏၊– ပတ်ဝန်းကျင်ရန်သူ လက်မှ
ကယ်နှုတ်တော်မူသော၊ မိမိတို့ဘုရား သခင်ထာ
၃၅ ဝရဘုရားကိုမအောက်မေ့ဘဲ၊–ဂိဒေါင်တည်းဟူ
သော ယေရုဗ္ဗာလ သည် ဣသရေလ အမျိုး၌ ပြု
သမျှသောကျေးဇူးနှင့်အညီ၊ သူ၏အမျိုး၌ကျေး
ဇူးတုံ့ကိုပြန်၍မပြုသဲနေကြ၏။

၉

၁ ယေရုဗ္ဗာလသားအဘိမလက်သည် ရှေခင်မြို့
သို့သွား၍၊ ဦးရီးများ၊ အမိ၏ အဆွေအမျိုးများ
၂ အပေါင်းတို့နှင့် တိုင်ပင်လျက်၊– ယေရုဗ္ဗာလ
သား ခုနှစ် ဆယ် တို့ သည် သင် တို့ ကို အုပ် စိုး
ကောင်း သလော၊ သား တယောက် တည်း အုပ်
စိုးကောင်း သလော၊ ငါသည်သင်တို့၏အရိုးအ
သားစစ်ဖြစ်ကြောင်းကိုမမေ့ကြနှင့်ဟု၊ ရှေခင်မြို့
သား အပေါင်းတို့အား ပြော ရ မည် အကြောင်း
၃ ကိုတိုင်ပင်လေ၏၊– ထိုစကားကို ဦးရီး တို့ သည်
ရှေခင်မြို့သားတို့အား အကုန် အစင် ပြန်ပြော၍၊
သူတို့က၊ အဘိမလက်သည် ငါတို့ညီအစ်ကိုဖြစ်
သည်ဟု ဆိုလျက်၊ သူနောက်သို့ လိုက်ချင်သော
၄ စိတ်ရှိကြသဖြင့်၊–ငွေခုနှစ်ဆယ်ကိုဗာလဗေ
ရိတ် အိမ် မှ ထုတ် ၍ ပေး လျှင်၊ အဘိ မလက်
သည်၊ လျှပ်ပေါ်သော သူတို့ကို ထို ငွေနှင့်ငှါး၍
၅ အမှုကိုထမ်းစေ၏၊–တဖန်ဩဖရမြို့၌ ရှိသောမိမိ
အဖအိမ်သို့ သွား ၍၊ မိမိညီအစ်ကို ယေရုဗ္ဗာလ
သား ခုနှစ် ဆယ် တို့ ကို ကျောက် တခု ပေါ်မှာ
သတ် လေ၏၊ သို့ ရာ တွင်၊ ယေ ရုဗ္ဗာ လ သားအ
ငယ် ဆုံး၊ ယောသံ သည် ဝှန်းရှောင်၍ နေ သော
၆ ကြောင့် ကျွန်ရစ် သ တည်း၊– ရှေခင် မြို့သားအ
ပေါင်းတို့နှင့် မိလ္လောအဆွေအမျိုး အပေါင်းတို့
သည်၊ ရှေခင်မြို့တွင်ရှိသော အထိမ်း အမှတ်သ
မိတ်ပင်သနားမှာ စည်းဝေး၍၊ အဘိမလက် ကို
ရှင်ဘုရင်အရာ၌ခန့်ထားကြ၏။
၇ ထိုအမှုကိုယောသံသည်ကြားသိသောအခါ၊
ဂေရဇိမ်တောင်သို့ သွား၍၊ တောင်ပေါ်မှာရပ်
လျက် အသံကိုလွှင့်၍၊ ကျူးကြော်ထေသည်မှာ၊
ထိုရှေခင်မြို့သားတို့၊ သင်တို့စကားကိုဘုရားသ
ခင် နား ထောင် တော်မူ မည်အကြောင်း၊ ငါ့စကား
၈ ကို နားထောင် ကြလော့၊– သစ်ပင် တို့သည် မိမိ
တို့ကို အုပ်စိုးရသောရှင်ဘုရင်ကိုခန့်ထားလျှက်
ထံသံလိုက် ပေး ခြင်းငှါ ထွက် သွား၍၊ အ ကျွန်ုပ်
တို့ကို အုပ်စိုး တော် မူပါလော့၊ သံ လွင်ပင် အား
၉ လျှောက် ကြလျှင်၊– သံလွင်ပင်က၊ ဘုရား အထ

ရေ၊ လူအသရေကိုပြုစုစရာငအဆီအပြားကိုငါ
သည်စွန့်၍၊သစ်ပင်တို့အပေါ်မှာလွှမ်းမိုးရမည်
၁၀ လောဟုဆို၏။- တဖန်သဘောသဖန်းပင်အား၊
ကိုယ်တော်ကြွ၍ အတွန့်ပ်တို့ကို အုပ်မိုးတော်
မူပါဟု၊ သစ် ပင် တို့သည် လျှောက် ကြ လျှင်။-
၁၁ သဘောသဖန်းပင်က၊ငါ၌ရှိသောအရသာနှင့်
ကောင်းသောအသီးကိုငါသည်စွန့်၍၊ သစ်ပင်
၁၂ တို့အပေါ်မှာလွှမ်းမိုးရမည်လောဟုဆို၏။-တဖန်
စပျစ်ပင်အား၊ကိုယ်တော်ကြွ၍၊ အတွန့်ပ်တို့ကို
အုပ်မိုးတော်မူပါဟု၊ သစ်ပင်တို့သည်လျှောက်
၁၃ ကြလျှင်၊- စပျစ်ပင်က၊ဘုရား၏စိတ်နှင့်လူ၏စိတ်
ကို ရွှင်လန်းစေသောငစပျစ်ရည်ကိုငါသည်စွန့်
၍၊ သစ်ပင်တို့အပေါ်မှာလွှမ်းမိုးရမည်လောဟု
၁၄ ဆို၏။- တဖန် ဆူးပင်အား၊ ကိုယ်တော်ကြွ
၍၊အကွန့်ပ်တို့ကိုအုပ်မိုးတော်မူပါဟု၊ သစ်ပင်
၁၅ အပေါင်းတို့သည်လျှောက်ကြလျှင်၊-ဆူးပင်
က၊သင်တို့သည်ငကိုသင်တို့၏ရှင်ဘုရင်ဖြစ်စေ
ခြင်းငှါ ခန့် ထား၍၊ ကေန်အမှန် ဘိသိတ် ပေး
လိုလျှင်၊ လာ ကြ၊ င အ ရိပ် ကို ခို လှုံ ကြ၊ သို့ မ
ဟုတ်၊ ဆူးပင် ထဲက မီးထွက်၍၊ လေဗနုန်
အာရစ်ပင်တို့ကိုလောင်ထိမ့်မည်ဟုသစ်ပင်တို့
၁၆ အားပြန်ပြော၏။- ယခုမှာ သင်တို့သည် အဘိမ
လက်ကို ရှင်ဘုရင် အရာ၌ ခန့်ထားသော အား
ဖြင့်၊ သစ္စာ တရားကို စောင့်၍၊ ယေရုဗ္ဗာလနှင့်
သူ၏အမျိုး၊အ ဆွယ် အားကောင်းစွန့်စွာပြုကြပြီ
လော၊ ယေရုဗ္ဗာလသည် ကျေးဇူးပြု၍ ခံထိုက်
သည် အ တိုင်း၊ သူ အား ကျေး ဇူး ဆပ် ကြ ပြီ
၁၇ လော။- ငအဖ သည် သင် တို့ အမှီ စစ် တိုက် ၍၊
ကိုယ်အသက်ကိုစွန့်စား၍လျက်၊ သင်တို့ကိုမိဒျန်
၁၈ အမျိုးထက် မှ ကယ်နှုတ် လေပြီ။-သင်တို့သည်
ငအဖ၏အဆွေအမျိုးတဖက်၌ထရေ့ထ၍၊ သူ၏
သားခုနှစ်ကျိပ်တို့ကိုကျောက်တစုပေါ်မှာသတ်
ပြီးလျှင်၊ သူ၏ကျွန်မတွင်မြင်သော သား၊ အဘိမ
လက်သည်သင်တို့ညီအစ်ကိုဖြစ်သောကြောင့်၊
သူကိုရှေခင်မြို့သားတို့၏ ရှင်ဘုရင် ခန့် ထားကြ
၁၉ ပြီတကား။- ယခုမှာသင်တို့သည်၊ ယေရုဗ္ဗာလ
နှင့်သူ၏ အမျိုး၊ အ ဆွယ် အား၊ သစ္စာ တရား အ
တိုင်း ထရေ့ ပြုပြီးလျှင်၊ အဘိမလက်ကို အမှီပြု
၍ ဝမ်း မြောက် ကြ လော့၊ အဘိ မလက် သည်
လည်း၊သင်တို့ကိုအမှီပြု၍ ဝမ်းမြောက်ပါစေ။-
၂၀ သို့မဟုတ်လျှင်၊ အဘိမလက်ထဲက မီးထွက်၍၊
ရှေ ခင် မြို့ သား နှင့် မိလ္လောအဆွေ အ မျိုး ကို
လောင်ပါစေ၊ ရှေခင်မြို့သားနှင့်မိလ္လောအဆွေ
အမျိုးထဲကမီးထွက်၍၊ အဘိမလက်ကိုလောင်
၂၁ ပါစေဟုကျွေး ကြေ်ငြီးမှ၊- အလျင် အမြန်ပြေး
၍၊ အစ် ကို အ ဘိ မ လက် ကို ကြောက် သော
ကြောင့်၊ဗေရမြို့သို့သွား၍နေလေ၏။
၂၂ အဘိမလက်သည်ဣသရေလ အမျိုးကိုအုပ်
၂၃ စိုး၍၊သုံးနှစ်ရှိသောအခါ၊-ဘုရားသခင်သည်
အဘိမလက်နှင့်ရှေခင်မြို့သားစပ်ကြားမှာဆိုး
သောဝိညာဉ်ကို စေလွှတ် တော်မူ၍၊ ရှေခင်မြို့
သားတို့သည် အဘိမလက်၏ သစ္စာကိုဖျက်ကြ
၂၄ ၏။- အကြောင်းမူကား၊ယေရုဗ္ဗာလ၏သားခုနှစ်
ကျိပ်တို့၌ ပြုမ်းတမ်းစွာ ပြု၍ သတ်မိသောအ
ပြစ်သည်၊ သူတို့ကို သတ်သောသူတို့ညီ အစ်ကို
အဘိမလက် အပေါ်သို့၎င်း၊ ညီ အစ်ကို များကို
သတ်သောအမှု၌ ဝိုင်း၍ ထက်ခံသော ရှေခင်မြို့
သားတို့အပေါ် သို့၎င်းရောက်ရမည် အကြောင်း
၂၅ တည်း။-ရှေခင်မြို့ သားတို့သည်၊အဘိမလက်ကို
ချောင်းမြောင်းစေခြင်းငှါ၊ လူတို့ကို တောင်ထိပ်
ပေါ်မှာထား၍၊ထိုသူတို့သည်ခရီးသွားသောသူ
အပေါင်းတို့၏ဥစ္စာကိုလုယူကြ၏။ထိုသိတင်းကို
၂၆ လည်းအဘိမလက်သည်ကြား၏။-ဧဗက်၏သား
ဂါလသည် မိမိညီ အစ်ကိုတို့နှင့်အတူ ရှေခင်မြို့
ထဲသို့ဝင်၍၊ရှေခင်မြို့သားတို့သည်သူ့ကိုကိုး
၂၇ စားကြ၏။-ဥယျာဉ်၌ ထည် ထွက်၊ စပျစ်သီးကို
သိမ်းယူလျှတ်ပျော်ရွှင်ခြင်းကို ပြုသဖြင့်၊ မိမိတို့
ဘုရား၏ ကျောင်း သို့ သွား၍၊ အဘိမလက် ကို
၂၈ ကျိန်ဆဲကြ၏။- ဧဗက်၏သား ဂါလ က လည်း၊
ငါတို့သည်အဘိမလက်အမှုကိုစောင့်ရမည်အ
ကြောင်း၊ အဘိမလက်ကား၊ အဘယ်သူနည်း။
ရှေ ခင် ကား၊ အ ဘယ် သူ နည်း၊ အဘိ မ လက်
သည် ယေရုဗ္ဗာလ သားမဟုတ် လော၊ ဇေဗုလ
သည် သူ၏ အမှုထမ်းမဟုတ်လော၊ ရှေခင် အဖ
ဟာမော်လူတို့၏အမှုကိုထမ်းကြလော့၊ အဘိမ
လက်အမှုကိုအဘယ်ကြောင့်ထမ်းရမည်နည်း။-
၂၉ ဤလူတို့သည် ငါလက်သို့ ရောက်ပါစေသောငှါ
ဖြစ်လျှင်၊ အဘိမလက်ကိုငါပယ်မည်ဟူ၍ဆိုပြီး၊
အဘိမလက်အား၊ သင်၏ဗိုလ်ခြေတို့ကိုပွားစေ
၃၀ ၍ထွက်လော့ဟူ၍ ဆို၏။-ဧဗက်၏ သားဂါလ
ထံစကားကို မြို့အုပ် ဇေဗုလကြား သော အခါ၊
၃၁ အမျက်ထွက်၍၊- ပရိယာယ်အားဖြင့် အဘိမ
လက်ထံသို့စေလွှတ်လျက်၊ဧဗက်၏သားဂါလ
သည်မိမိညီအစ်ကိုတို့နှင့်အတူ ရှေခင်မြို့သို့လာ

၍၊ကိုယ်တော်တပေါင်းတို့၌မြို့ကိုဖွင်ဆင်ကြပါ၏၊-
၃၂ ထို့ကြောင့်၊ညဉ့်အခါကိုယ်တော်သည်၊ပါသော
သူတို့နှင့်တကွထ၍၊တော၌ချောင်းမြောင်း
၃၃ လျှက်နေတော်မူပါ၊- နံနက်စောစောနေထွက်စ
ထထ၍၊မြို့ကိုတိုက်တော်မူပါ၊ ဂါလသည်သူ၌
ပါသောလူတို့နှင့်တကွဆီး၍ကြိုသောအခါ၊အ
ဆင်သင့်သည်အတိုင်း ပြုတော်မူပါဟုကြား
လျှောက်လေ၏၊
၃၄ အဘိမလက်သည်သူ၌ပါသမျှသောလူတို့
နှင့်တကွညဉ့်အခါထ၍၊တပ်လေးတပ်ခွဲပြီး
လျှင်၊ ရှေခင်မြို့ကိုချောင်းမြောင်းလျှက်နေကြ
၃၅ ၏၊- ဧဗက်၏သားဂါလသည်ထွက်၍၊ မြို့တံခါး
ဝ၌ရပ်လျှင်၊ အဘိမလက်သည်မိမိ၌ပါသော
၃၆ သူတို့နှင့်တကွချောင်းမြောင်းရာမှထကြ၏၊-ဂါ
လသည်ထိုလူတို့ကိုမြင်လျှင်၊ တောင်ပေါ်မှလူ
များဆင်းလာကြသည်ဟု၊ ဇေဗုလအားဆို
သော်၊ဇေဗုလက၊ တောင်အရိပ်သည်လူကဲ့သို့
၃၇ ထင်သည်ဟုပြန်ပြော၏၊-တဖန်ဂါလက၊ကြည့်
ပါ၊လူအချို့တို့သည်တောင်မြိုးပေါ်မှဆင်းလာ
ကြ၏၊ အချို့တို့သည်မောနေနိမ်သပိတ်တော
၃၈ ထဲမှဆင်းလာကြ၏ဟု ပြောဆိုလျှင်၊- ဇေဗုလ
က၊ငါတို့သည်အဘိမလက်အမှုကိုထမ်းရမည်
အကြောင်း၊ အဘိမလက်သည်အဘယ်သူနည်း
ဟု၊ သင်ဆိုသောနှုတ်သည်ယခုအဘယ်မှာရှိ
သနည်း၊ ထိုလူတို့သည်၊ သင်မထီမဲ့မြင်ပြုသော
သူမဟုတ်လော၊ ထွက်၍သူတို့ကိုစစ်တိုက်ပါ
၃၉ လော့ဟုဆိုသော်၊-ဂါလသည်ရှေခင်မြို့သားတို့
ရှေ့မှာထွက်၍၊ အဘိမလက်ကိုတိုက်လေ၏၊-
၄၀ အဘိမလက်လိုက်၍၊ ဂါလပြေးသဖြင့်၊ များ
သောသူတို့သည်မြို့တံခါးဝတိုင်အောင်အထိအ
၄၁ ခိုက်ခံလျှက်လဲ၍သေကြ၏၊-အဘိမလက်သည်
အရုမမြို့မှာနေ၍၊ဇေဗုလသည်ဂါလနှင့်သူ၏ညီ
အစ်ကိုတို့ကိုရှေခင်မြို့၌မနေစေခြင်းငှါနှင်ထုတ်
၄၂ လေ၏၊- နက်ဖန်နေ့၌လူများတို့သည်မြို့ပြင်သို့
ထွက်မည်အကြောင်းကိုအဘိမလက်သည်
၄၃ ကြားလျှင်၊- မိမိလူတို့ကိုသုံးစုခွဲ၍၊ တော၌
ချောင်းမြောင်းလျှက်နေသဖြင့်၊ မြို့သားတို့သည်
ထွက်လာကြသောအခါ၊ ထ၍လုပ်ကြံလေ၏၊-
၄၄ အဘိမလက်သည်မိမိလူတစုနှင့်မြို့တံခါးဝသို့
ပြေးထွက်၍စောင့်နေ၏၊အခြားသောလူနှစ်စုတို့
သည်တော၌ရှိသောလူတို့ဆီသို့ပြေး၍သတ်ကြ
၄၅ ၏၊- အဘိမလက်သည်တနေ့လုံးမြို့ကိုတိုက်၍ရ

သောအခါ၊မြို့၌နေသောသူတို့ကိုသတ်ပြီးလျှင်
မြို့ရိုးကိုဖြိုဖျက်၍မြေကိုဆားနှင့်ကြဲဖြန့်လေ၏၊
၄၆ ထိုသိတင်းကိုရှေခင်ရဲတိုက်သား၊ အပေါင်း
တို့သည်ကြားလျှင်၊ဗေရိတ်ဘုရား၏ကျောင်း၌
၄၇ ခိုင်ခံ့သောအခန်းထဲမှာစုဝေးကြ၏၊- ရှေခင်ရဲ
တိုက်သားအပေါင်းတို့သည်စုဝေးကြောင်းကို
၄၈ အဘိမလက်သည်ကြားသော်၊- ကိုယ်
တိုင်မှစ၍ပါသောသူအပေါင်းတို့သည်ဇလမုန်
တောင်သို့သွားပြီးလျှင်၊ အဘိမလက်သည်ပု
ဆိန်နှင့်သစ်ခက်ကိုခုတ်၍၊မိမိပခုံးပေါ်မှာဆင်
ထမ်းလျှက်၊ ငါပြုသည်ကိုသင်တို့မြင်သည်အ
တိုင်းအလျင်အမြန်ပြုကြလော့ဟု၊ လိုက်သော
၄၉ သူတို့အားဆိုလျှင်၊- သူ၏လူအပေါင်းတို့သည်
ထိုအတူအသီးအသီးသစ်ခက်တို့ကိုခုတ်၍၊ အ
ဘိမလက်နောက်သို့လိုက်လျှက်၊ ခိုင်ခံ့သောအ
ခန်းကိုမီးရှို့ကြ၏၊ ထိုသို့ရှေခင်ရဲတိုက်သားအ
ပေါင်းတို့နှင့်အတူ၊ တထောင်သောယောကျ်ား
မိန်းမတို့သည်သေကြကုန်၏၊
၅၀ ထိုနောက်မှအဘိမလက်သည်သေဗက်မြို့သို့
၅၁ သွား၍တပ်ချပြီးလျှင်၊ တိုက်ယူလေ၏၊- သို့ရာ
တွင်၊ မြို့ထဲမှာခိုင်ခံ့သောရဲတိုက်တခုရှိ၍၊ မြို့
သားယောကျ်ားမိန်းမအပေါင်းတို့သည်ထိုရဲတိုက်
ထဲသို့ပြေးဝင်ကြ၏၊ တံခါးကိုလည်းပိတ်ထား
၅၂ ၍၊ရဲတိုက်အပေါ်သို့တက်ကြ၏၊-အဘိမလက်
သည်ရဲတိုက်ကိုလာ၍တိုက်လျှက်၊ ရဲတိုက်တံ
၅၃ ခါးကိုမီးရှို့ခြင်းငှါချဉ်းကပ်သောအခါ၊-မိန်းမတ
ယောက်သည်ကြိတ်ဆုံကျောက်တခဲကိုအဘိမ
လက်ခေါင်းပေါ်သို့ပြစ်ချ၍၊ဦးကျှောင်းခွဲပေါက်
၅၄ ကွဲလေ၏၊- သူသည်၊ လက်နက်ကိုင်လုလင်ကို
အလျင်အမြန်ခေါ်၍၊မိန်းမသည်အဘိမလက်ကို
သတ်သည်ဟုပြောစရာမရှိစေခြင်းငှါ၊သင့်ထား
ကိုထုတ်၍ငါ့ကိုသတ်လော့ဟုဆိုသည်အတိုင်း၊
၅၅ လုလင်သည်ထိုး၍အဘိမလက်သေလေ၏၊-အ
ဘိမလက်သေကြောင်းကိုဣသရေလလူတို့
သည်သိမြင်လျှင်၊ အသီးအသီးမိမိတို့နေရာသို့
၅၆ ပြန်သွားကြ၏၊- ထိုသို့အဘိမလက်သည်မိမိညီ
အစ်ကိုခုနစ်ဆယ်တို့ကိုသတ်၍ပြုမိသောဒုစ
ရိုက်အပြစ်ကိုဘုရားသခင်ဆပ်ပေးတော်မူ၏၊-
၅၇ ရှေခင်မြို့သားပြုသောဒုစရိုက်အပြစ်ကိုလည်း၊
သူတို့ခေါင်းပေါ်သို့ဘုရားသခင်ရောက်စေတော်
မူသဖြင့်၊ ယေရုဗ္ဗာလသားယောသံကျိန်သော
စကားအတိုင်း၊သူတို့သည်ခံရကြ၏၊

၁၀

၁ အဘိမလက်ထက်နောက်မှ၊ ဣသရေလ
အမျိုးကိုကယ်တင်သောသူ၊ ဣသခါအမျိုး၊ဒေါ
ဒေါသားပုဝါ၏သား၊တောလသည်ပေါ်ထွန်း၍၊
၂ ဧဖရိမ်တောင်ပေါ်၊ရှမိရမြို့မှာနေလေ၏။-ထိုသူ
သည် ဣသရေလအမျိုးကို အနှစ်နှစ်ဆယ်သုံး
နှစ်ပတ်လုံးအုပ်စိုးပြီးမှသေ၍၊ရှမိရမြို့မှာသင်း
ဂြိုဟ်လေ၏။
၃ ထိုသူထက် ထက်နောက်မှ၊ ဂိလဒ်ပြည်သား
ယာဣရသည်ပေါ်ထွန်း၍၊ဣသရေလအမျိုးကို
၄ အနှစ်နှစ်ဆယ် နှစ်နှစ် ပတ်လုံး အုပ်စိုး၏။-ထို
မင်း၌ကား၊ သားသုံးဆယ် ရှိ၍၊ သူတို့သည် မြ
ငယ် သုံးဆယ် တို့ကို စီးလျက်၊ ဂိလဒ်ပြည်၌
ယာဣရအမည်ဖြင့်၊ယနေ့တိုင်အောင်
ခေါ်ဝေါ်သောမြို့သုံးဆယ်တို့ကို ကဲကျွေးပြုကြ
၅ ၏။- ယာဣရသေ၍၊ ကာမုန်မြို့မှာ သင်းဂြိုဟ်
လေ၏။
၆ ထိုနောက်ဣသရေလအမျိုးသားတို့သည်၊ထာဝရ
ဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၍၊ဗာလဘုရား၊
အာရှတရက် ဘုရား၊ ရှုရိဘုရား၊ ဇိဒုန် ဘုရား၊
မောအဘုရား၊ အမ္မုန်ဘုရား၊ ဖိလိတ္တိ ဘုရားတို့
ကိုဝတ် ပြု၍၊ ထာဝရ ဘုရား ကို ဝတ် မပြု၊ စွန့်
၇ ထားကြ၏။- ထာဝရဘုရားသည် ဣသရေလအ
မျိုး ကို အမျက် ထွက် ၍၊ ဖိလိတ္တိလူ တို့ ၌ ၎င်း၊
အမ္မုန် အမျိုး သား တို့ ၌ ၎င်း ရောင်း တော်မူသ
၈ ဖြင့်၊- ယော်ဒန်မြစ်တဖက်၊ အာမောရိ လူနေရာ
ဂိလဒ်ပြည်၌နေသော ဣသရေလအမျိုးသားအ
ပေါင်းတို့ကို၊ ထိုနှစ်မှစ၍ တဆယ် ရှစ် နှစ် ပတ်
၉ လုံးညှဉ်းဆဲကြ၏။-အမ္မုန်အမျိုးသားတို့သည်
လည်း၊ယော်ဒန်မြစ်ကိုကူး၍၊ယုဒအမျိုး၊ ဗင်္ယာ
မိန်အမျိုး၊ဧဖရိမ်အမျိုး၊သားတို့ကိုတိုက်သဖြင့်၊
ဣသရေလ အမျိုး သားတို့သည်၊ ကြီး စွာသော
ဆင်းရဲ ခြင်းသို့ရောက်ကြ၏။
၁၀ ထို အခါ ဣသရေလ အမျိုး သား တို့က၊ အ
ကျွန်ုပ် တို့သည် ကိုယ် တော်ကို ပြစ်မှားပါပြီ။ အ
ကျွန်ုပ်တို့၏ ဘုရားသခင်ကိုစွန့်၍၊ ဗာလဘုရား
တို့ကို ဝတ်ပြု မိပါ ပြီဟု၊ ထာဝရ ဘုရား အား
၁၁ ဟစ်ကြော်ကြ၏။- ထာဝရဘုရားကလည်း၊ ငါ
သည် သင်တို့ ကို အဲဂုတ္တုလူ၊ အာမောရိ လူ၊
အမ္မုန်လူ၊ ဖိလိတ္တိလူတို့လက်မှကယ်နှုတ်သည်
၁၂ မဟုတ်လော။- ဇိဒုန်သူ၊ အာမလက်လူ၊ မောန်
လူတို့ညှဉ်းဆဲသောအခါ၌လည်း၊ သင်တို့သည်
ငါ့ကို ဟစ်ကြော် ၍၊ သူတို့ လက်မှ ငါကယ် နှုတ်
၁၃ ၏။- သို့ သော် လည်း၊ သင်တို့ သည် ငါ့ ကို စွန့် ၍
အခြား တပါး သော ဘုရား တို့ ကိုဝတ် ပြု သော
၁၄ ကြောင့်၊နောက်တဖန်ငါမကယ်နှုတ်။- သင်တို့
ရွေးယူသောဘုရားတို့ကိုသွား၍၊ဟစ်ကြော်ကြ
လော့။ အမှု ရောက် သော ကာလ ၌ သူတို့
သည် ကယ်နှုတ် ကြစေဟု၊ ဣသ ရေလ အမျိုး
၁၅ သားတို့အား မိန့်တော် မူ၏။- ဣသရေလ အမျိုး
သားတို့ကလည်း၊ အကျွန်ုပ်တို့သည် ပြစ်မှားပါ
ပြီ။ မိတ်တော်ရှိသည် အတိုင်း အကျွန်ုပ်တို့၌ ပြု
တော်မူပါ။ ယနေ့တကြိမ်သာ ကယ်နှုတ် တော်မူ
မည်အကြောင်း၊ အကျွန်ုပ်တို့တောင်းပန်ပါ၏ဟု၊
ထာဝရ ဘုရား အား တောင်း လျှောက် လျက်၊-
၁၆ တပါး အမျိုး သား ကိုး ကွယ်သော ဘုရား တို့ကို
ပယ်၍၊ ထာဝရဘုရားကိုဝတ်ပြုကြ၏။ ထိုအခါ
ထာဝရဘုရားသည်၊ ဣသရေလအမျိုးခံရသော
ဒုက္ခ ဆင်းရဲ ကြောင့်၊ ကြင်နာသော စိတ် နှစ်လုံး
၁၇ ရှိတော်မူ၏။- အမ္မုန်အမျိုးသားတို့သည် စည်း
ဝေး၍၊ ဂိလဒ်ပြည်၌တပ်ချကြ၏။ ဣသရေလအ
မျိုးသားတို့သည်စည်းဝေး၍၊ မိဇပါမြို့မှာတပ်
၁၈ ချကြ၏။- ဂိလဒ် ပြည် သား မင်း များ တို့က၊ အ
ကြင် သူ သည် အမ္မုန် အမျိုး သား တို့ကို အဦး
တိုက်၏၊ထိုသူသည်ဂိလဒ်ပြည်သားအပေါင်းတို့
၏အထွဋ်ဖြစ်စေဟုတိုင်ပင်မိရင်ကြ၏။

၁၁

၁ ဂိလဒ်အမျိုးသားယေဖသသည်၊ခွန်အားကြီး
သော သူရဲဖြစ်၏။ သူ့အဖကား၊ ဂိလဒ်၊ သူ့အမိ
၂ ကား၊ပြည်တန်ဆာဖြစ်၏။-ဂိလဒ်၏မယားဘွား
မြင်သော သားတို့ သည် ကြီးသောအခါ၊ သင်
သည် အခြားတပါးသော မိန်းမ၏ သား ဖြစ်သော
ကြောင့်၊ငါတို့အဆွေအမျိုးနှင့်အတူ၊ အမွေမခံ
၃ ရဟုယေဖသကိုဆို၍နှင်ထုတ်လေ၏။- ထိုအခါ
ယေဖသသည်ညီတို့ထံမှထွက်သွား၍ တောဘ
ပြည်၌နေသဖြင့်၊ လူပေါ်သော သူတို့သည်သူ
ထံမှာ စည်းဝေး၍၊ သူနောက် ၌ လိုက် ကြ၏။-
၄ နောက်တဖန် အမ္မုန် အမျိုးသားတို့သည်၊ ဣသ
၅ ရေလအမျိုးကိုစစ်တိုက်ကြ၏။-ထိုသို့အမ္မုန်အ
မျိုးသားတို့သည်၊ ဣသရေလအမျိုးကိုစစ်တိုက်
သောအခါ၊ ဂိလဒ်ပြည်သားအသက်ကြီးသူတို့
သည်၊ ယေဖသကို တောဘ ပြည်မှ ခေါ်ခြင်းငှါ
၆ သွား၍၊-ငါတို့သည်အမ္မုန်သူတို့ကိုစစ်တိုက်ရ
မည် အကြောင်း၊ သာ၍ ငါတို့၏ ဗိုလ် ချုပ် မင်း

၇ ထုပ်ပါထုမှာလိုက်သော်၊- ယေဖသက၊ သင်တို့
သည်ငါ့ကိုရုန်း၍၊ ငါ့အဖအိမ်မှနှင်ထုတ်သည်မ
ဟုတ်လော၊ ယခုဆင်းရဲခြင်းသို့ရောက်သောအ
ခါ၊အဘယ်ကြောင့် ငါ့ထံသို့လာကြသနည်းဟု၊
ဂိလဒ်ပြည်သား အသက်ကြီးသူတို့အားပြောဆို
၈ ၏။- ဂိလဒ် ပြည် သား အ သက် ကြီး သူ တို့က
လည်း၊ ထိုကြောင့် ငါတို့ သည် ယခု သင့်ထံသို့
ပြန်လာပါ၏၊ငါတို့နှင့်အတူကြွ၍၊အမ္မုန်လူတို့
ကိုစစ်တိုက်ပြီးလျှင်၊ဂိလဒ်ပြည်သား အပေါင်း
တို့၏ အထွဋ်လုပ်ပါဟု၊ ယေ ဖသအား တောင်း
၉ ပန် ပြန်သော်၊- ယေဖသက၊ အမ္မုန်လူတို့ကို စစ်
တိုက်စေခြင်းငှါသင်တို့သည်ငါ့ကိုပြန်ခေါ်၍၊ထာ
ဝရဘုရားသည် သူတို့ကို ငါ့ လက်သို့ အပ် တော်မူ
လျှင်၊ ငါသည်သင်တို့အထွဋ် ဖြစ်ရသောအခွင့်
ကိုပေးမည် လောဟု၊ ဂိလဒ် ပြည်သား အသက်
၁၀ ကြီးသူတို့အားမေးလေသော်၊-ဂိလဒ်ပြည်သား
အသက်ကြီးသူတို့က၊ သင်ပြောသော စကားအ
တိုင်း၊ ငါတို့ မပြုလျှင်၊ ထာဝရ ဘုရားသည် သင်
နှင့်ငါတို့စပ်ကြား၌ သက်သေ ဖြစ်တော်မူပါစေ
၁၁ သောဟု၊ ယေဖသအား ပြန်ပြော ကြ၏၊- ထိုအ
ခါယေဖသသည် ဂိလဒ် ပြည်သား အသက်ကြီး
သူတို့နှင့်သွား၍၊သူကိုလူများတို့၏အထွဋ် မှူးလိ
ချုပ်မင်း အရာ၌ ခန့်ထားကြ၏၊ ယေဖသ သည်
လည်း၊ ထို စကား အ လုံး စုံ တို့ကို မိဇပါ မြို့မှာ
ထာဝရ ဘုရား ရှေ့ တော်၌ ပြန်ကြား လျှောက်
ထား၏။

၁၂ ထိုနောက်မှ ယေဖသသည်၊ အမ္မုန်ရှင်ဘုရင်
ထံသို့သံတမန်ကို စေလွှတ်၍၊ သင်သည် ငါ့နှင့်
အဘယ်သို့ဆိုင်သနည်း။ငါ့နိုင်ငံ၌စစ်တိုက်ခြင်း
ငှါအဘယ် ကြောင့် ငါ့ကို ရန်ပြုသနည်းဟု မေး
၁၃ သော်၊- အမ္မုန်ရှင်ဘုရင်က၊ ဣသရေလ အမျိုး
သည် အဲဂုတ္တုပြည်မှ ထွက် သော အခါ၊ ငါ့မြေကို
အာ နုန်မြစ်မှစ၍ယဗ္ဗုတ်ချောင်း၊ ယော်ဒန်မြစ်
တိုင်အောင်လု၍ယူသောကြောင့်ငါပြု၏၊ထိုမြေ
ကိုယခုအသင့်အတင့်ပြန်ပေးပါဟု၊ ယေဖသ၏
၁၄ သံတမန်အားပြန်ပြော၏၊-တဖန်ယေဖသသည်
သံတမန်ကို အမ္မုန်ရှင်ဘုရင်ထံသို့စေလွှတ်၍၊-
၁၅ ယေဖသမှာလိုက်သည်ကား၊ ဣသရေလအမျိုး
သည် မောဘ မြေ၊ အမ္မုန် မြေ ကို လုယူ သည် မ
၁၆ ဟုတ်၊- ဣသရေလအမျိုးသည် အဲဂုတ္တုပြည်မှ
ထွက်၍၊ ပင်လယ်နီ အနား၊ တော၌လှည့်လည်
၁၇ သဖြင့် ကာဒေရှ ရွာသို့ ရောက် သောအခါ၊- ဧဒုံ
ရှင်ဘုရင်ထံသို့သံတမန်ကိုစေလွှတ်၍၊ မင်းကြီး
ပြည်ကို ရှောက် သွား ပါ ရစေဟု အခွင့်တောင်း
သော်လည်း၊ ဧဒုံရှင်ဘုရင်သည် နား မထောင်း
ဘိုနည်းတူ၊ မောဘရှင်ဘုရင်ထံသို့ စေလွှတ်၍၊
သူသည်လည်း အခွင့်မပေးသောကြောင့်၊ ဣသ
ရေလ အမျိုး သည် ကာဒေရှ ရွာ၌ နေရ ကြ၏။-
၁၈ နောက်တဖန်တောကိုရှောက်လျှောက်၊ဧဒုံပြည်နှင့်
မောဘပြည်ကိုပိုင်း၍၊မောဘပြည်အရှေ့ထက်
သို့ရောက်ပြီးမှ၊အာနုန် မြစ် တဖက်၌ တပ်ချကြ
၏၊ ထိုအခါ မောဘ ပြည်နယ် အတွင်းသို့ မဝင်
ကြ၊ အာနုန် မြစ်သည် မောဘ ပြည် အပိုင်း အ
၁၉ ခြား ဖြစ် သ တည်း။- တဖန် ဣသ ရေလ အမျိုး
သည် အာမောရိ အမျိုး၊ ဟေရှဘုန် ရှင် ဘုရင်ရှိ
ဟုန်ထံသို့ သံတမန်ကို စေ လွှတ်၍၊ ငါတို့ နေရာ
သို့ ရောက် ထိုသောငှါ၊ မင်းကြီး ပြည်ကို ရှောက်
၂၀ သွားပါရစေဟု၊ အခွင့်တောင်းသော်လည်း၊-ရှိ
ဟုန်သည်ဣသရေလအမျိုးကိုမယုံ၊မိမိပြည်ကို
ရှောက်သွားစေခြင်းငှါအခွင့် မပေးသည်သာမ
က၊မိမိလူအပေါင်းတို့ကိုစုဝေးစေ၍၊ယာဟတ်
မြို့၌ တပ် ချပြီး လျှင်၊ ဣသ ရေလ အမျိုးကို စစ်
၂၁ တိုက်လေ၏။- ဣသရေလအမျိုး၏ ဘုရားသခင်
ထာဝရ ဘုရား သည်၊ ရှိဟုန် မင်း နှင့်တကွ သူ၏
လူအပေါင်းတို့ကို၊ ဣသရေလအမျိုးလက်၌အပ်
တော်မူ၍၊ သူတို့ကိုလုပ်ကြံသဖြင့်၊ထိုပြည်၌နေ
သော အာ မောရိ လူတို့၏မြေ တရှောက်လုံး ကို
၂၂ သိမ်း ယူ ကြ၏၊- အာ မောရိ ပြည် နယ် မြေတ
ရှောက်လုံးကို၊အာနုန်မြစ်မှစ၍ ယဗ္ဗုတ်ချောင်း
တိုင် အောင်၎င်း၊ တော မှစ၍ ယော်ဒန် မြစ် တိုင်
၂၃ အောင်၎င်းသိမ်းယူကြ၏၊- ထိုသို့ ဣသရေလအ
မျိုး၏ဘုရားသခင်ထာဝရဘုရားသည်၊ အာမော
ရိလူတို့ကို ဣသရေလအမျိုးရှေ့မှာသူတို့ပြည်ကို
နှင်တော် မူသည်ဖြစ်၍၊ သင်သည် သိမ်း ယူရ
၂၄ မည်လော၊-သင်၏ဘုရားခေမုရှအပိုင်ပေးသော
မြေကိုသင်သိမ်းယူရသည် မဟုတ်လော၊ ထိုအ
တူ၊ ငါတို့ဘုရားသခင် ထာဝရ ဘုရား နှင်ထုတ်
တော်မူသောသူတို့၏မြေကိုငါတို့သည်သိမ်းယူ
၂၅ ရ၏၊-သင်သည်၊ မောဘရှင်ဘုရင်ဇိပေါ်မင်း၏
သား၊ ဗာလက် ထက်သာ ၍ မြတ် သ လော၊ သူ
သည်ဣသရေလအမျိုးနှင့်ရန်တွေ့ဘူးသလော၊
၂၆ စစ်တိုက် ဘူး သလော၊- ဣသရေလအမျိုးသည်
ဟေရှဘုန် မြို့ရွာ တို့၌၎င်း၊ အာရော် မြို့ရွာ တို့၌
၎င်း၊အာနုန်မြစ်နားမှာရှိသောမြို့ရွာအလုံးစုံတို့



 

ဦးရာသုံးနှစ်ပတ်လုံးနေစဉ်တွင်၊ အဘယ်
၂၇ ကြောင့် သင်တို့သည် မရပြန်သနည်း။— သင့်ကို
ငါမပြစ်မှား။ သင်သည် စစ်တိုက်၍ ငါ့ကို ညှဉ်းဆဲ၏။ ထာဝရဘုရားသည်တရားသူကြီးလုပ်၍၊
ဣသရေလ အမျိုး သား၊ အမ္မုန် အမျိုးသား တို့
စပ်ကြားမှာယနေ့ တရားစီရင် ဆုံးဖြတ်တော်မူ
၂၈ ပါစေသောဟုမှာထိုက်လေ၏။— သို့သော်ယေဖ
သ၏ မှာထိုက်သော စကားကို အမ္မုန်ရှင်ဘု
ရင်သည်နားမထောင်ဘဲနေ၏။
၂၉ ထိုအခါထာဝရဘုရား၏ ဝိညာဉ်တော်သည်
ယေဖသအပေါ်မှာ သက်ရောက်၍၊ သူသည်ဂိ
လဒ်ပြည်၊ မနာရှေပြည်ကိုရှောက်လျှက်၊ ဂိလဒ်
ပြည်မိဇပါမြို့ကိုလွန်၍၊ အမ္မုန်လူတို့ ရှိရာသို့ရှိ
၃၀ သွားလေ၏။—ယေဖသသည်ထာဝရဘုရားအား
သစ္စာဂတိ ထားလျှက်၊ အကယ်၍ ကိုယ်တော်
သည်အမ္မုန်အမျိုးသားတို့ကို အကျွန်ုပ်လက်၌
၃၁ အပ်တော်မူလျှင်၊—အကျွန်ုပ်သည်အမ္မုန်အမျိုး
သားတို့ရှိရာမှ ငြိမ်ဝပ်စွာ ပြန် လာ သော အခါ၊
အကျွန်ုပ်ကို ခရီးဦးကြိုပြုဆဲ့သောငှါ၊ အကျွန်ုပ်
အိမ်တံခါးဝမှထွက်လာသော သူ မည်သည်ကို
ထာဝရ ဘုရားအားအမှန် ဆက် သ၍၊ မီး ရှို့ရာ
ယဇ်ပူဇော်ပါမည်ဟု သစ္စာ ဂတိ ထားပြီးမှ၊—
၃၂ အမ္မုန်အမျိုးသားတို့ကိုတိုက်ခြင်းငှါရှိသွား၍၊
ထာဝရဘုရားသည် သူတို့ကို ယေဖသ လက်၌
၃၃ အပ်တော်မူသဖြင့်၊— အာရော်မြို့မှစ၍ မိန္နိတ်မြို့
တိုင်အောင်၎င်း၊အာဗေလခေရမိမ်မြို့တိုင်အောင်
၎င်း၊မြို့နှစ်ဆယ်တို့ကိုကြီးစွာသောလုပ်ကြံခြင်း
အား ဖြင့်၊ သူတို့ ကို တိုက် သတ် လေ၏။ ထို သို့
အမ္မုန် အမျိုးသားတို့သည်၊ ဣသရေလ အမျိုး
သားတို့ရှေ့မှာရှုံးရကြ၏။
၃၄ ယေဖသ သည် မိဇပါမြို့၊ မိမိအိမ်သို့ ရောက်
လာသောအခါ၊ မိမိသမီးသည်ပတ်သာတီးလျှက်၊
ကလျှက်၊ ခရီးဦးကြိုပြုဆဲ့သောငှါထွက်လာ၏။
သူသည် တယောက်တည်းသော သမီးဖြစ်၍၊သူ
၃၅ မှတပါး၊သားသမီးမရှိ၊— ယေဖသသည်သူကိုမြင်
လျှင်၊မိမိအဝတ်ကိုဆုတ်၍၊အိုငါ့သမီး၊ သင်သည်
ငါ့ကို အလွန် နှိမ့်ချပြီ တကား။ ငါ့ကို နှောင့်ရှက်
သောသူတယောက်ဖြစ်ပါသည်တကား။ ထာဝ
ရ ဘုရား အား ငါလျှောက်ထားပြီ၊ ရုတ်ရသော
၃၆ အခွင့်မရှိဟု ဆို သော်၊— သမီး က၊ ခ မည်း တော်
သည် ထာဝရ ဘုရား အားလျှောက်ထားလျှင်၊
လျှောက်ထားသည်အတိုင်း ကျွန်မ၌ ပြုပါ၊ အ
ကြောင်းမူကား၊ ထာ ဝရ ဘုရား သည် ခမည်း
တော်၏ရန်သူ၊ အမ္မုန် အမျိုးသားတို့၌၊ ခမည်း
တော်၏ မိတ် ပြေစေ ခြင်းငှါ အပြစ် ပေး တော်မူ
၃၇ ပြီ။— သို့ရာတွင်၊ ကျွန်မ သည် အပေါင်း အဖော်
တို့နှင့်တကွ၊ တောင်မိုးပေါ်မှာ လှည့် လည် ၍၊
ကျွန်မ ၏ အပျို ကညာ ဖြစ်ခြင်းကို ငိုကြွေး မြည်
တမ်းရမည်အကြောင်း၊ နှစ်လ ပတ်လုံးအလွှတ်
နေပါရစေဟု၊ အဖအား အခွင့်တောင်းသည်အ
၃၈ တိုင်း၊—အဖက၊ သွားလေတော့ဟု ဆိုလျှက်၊ နှစ်
လကိုမှန်းချက်၍ လွှတ်လိုက်လျှင်၊ အပေါင်းအ
ဖော်တို့နှင့် တကွ သွား၍၊ တောင်မိုး ပေါ်မှာမိမိ
အပျိုကညာဖြစ်ခြင်းကို ငိုကြွေးမြည်တမ်းလေ
၃၉ ၏။— နှစ်လစေ့သောအခါ၊အဖထံသို့ပြန်လာ၍၊
အဖသည် သစ္စာဂတိရှိသည်အတိုင်းပြုလေ၏။
ကိုမီစွာသည်ယောကျာ်း နှင့် မဆက် ဆံ သောသူ
၄၀ ဖြစ်၏။— ထို နှစ်တ ၌ ဣသရေလ အမျိုး တို့ထုံ
သည်၊ဂိလဒ်အမျိုးသားယေဖသ၏သမီးကြောင့်
တနှစ် တနှစ် လျှင်၊ လေးရက် ပတ် လုံး ငိုကြွေး
မြည်တမ်းခြင်းငှါသွားရသော၊ ဣသရေလထုံး
စံလေ့ဖြစ်လေ၏။

၁၂

၁ ဧဖရိမ် အ မျိုး သား တို့ သည် စည်းဝေး ၍၊
မြောက်သို့ရှိသွားလျှင်၊ယေဖသအား၊သင်သည်
ငါတို့ကို မခေါ်ဘဲ၊ အမ္မုန် အမျိုး သား တို့ကိုအ
ဘယ်ကြောင့် တိုက်ခြင်းငှါ သွား သနည်း။ သင့်
အိမ် ကို သင့် အ ပေါ်မှာ မီး ရှို့မည် ဟု ဆို ကြ
၂ သော်၊–ယေဖသက၊ငါနှင့်ငါ၏လူတို့သည် အမ္မုန်
အမျိုး သားတို့နှင့် ကြီးသော အမှု ရှိစည် အခါ။
သင် တို့ ကို ငါ ခေါ် သော် လည်း၊ သင် တို့ သည်
အမ္မုန်လူတို့လက်မှငါ့ကိုမကယ်မနှုတ်ဘဲနေကြ
၃ ၏။– မကယ် မနှုတ် ကြောင်းကို ငါသည် သိမြင်
သော အ ခါ၊ ကိုယ် အသက် ကို စွန့် စား လျှက်၊
အမ္မုန်အမျိုးသားတို့ကိုတိုက် ခြင်းငှါ သွား၍၊
ထာဝရဘုရားသည်သူတို့ကိုငါ့လက်၌ အပ်တော်
မူ၏။ သင် တို့ သည် ငါ့ကို တိုက် ခြင်းငှါ အဘယ်
ကြောင့် ယနေ့ လာကြ သနည်းဟု ပြောဆိုပြီး
၄ လျှင်၊– ဂိလဒ် ပြည်သား အပေါင်း တို့ ကို စုဝေး
စေ၍၊ ဧဖရိမ် အမျိုးကို တိုက် ကြ၏။ ဧဖရိမ်လူ
တို့က၊သင်တို့သည်ဧဖရိမ်အမျိုး၊မနာရှေအမျိုး
ထဲကထွက်ပြေး၍၊ အမျိုးမစစ်သောသူဖြစ်သည်
ဟုဂိလဒ်ပြည်သားတို့ကိုကဲ့ရဲ့သောကြောင့်၊
၅ ဧဖရိမ်လူတို့၊ ကိုလုပ်ကြံကြ၏။—ဂိလဒ်လူတို့သည်

ဧဖရိမ်လူတို့ ရှေ့မှာ ယောဒန် မြစ် ကူးရာ အရပ်
တို့ကို ဆီးတား၍၊ ပြေးလွတ်သောဧဖရိမ်လူက၊
ကူးပါရစေဟု အခွင့်တောင်းသောအခါ၊ ဂိလဒ်
လူတို့က၊ သင် သည် ဧဖရိမ် အမျိုး သား ဖြစ် သ
လောဟု မေး စစ် သော်၊ သူက၊ မဟုတ်ပါဟု ဆို
၆ လျှင်၊-သူတို့က၊ ရှိဗောလက်ဟုသောစကားကို
ပြောတော့ဟု ဆိုသော်၊ ဧဖရိမ်လူသည် ထိုစကား
ကိုပြီ အောင် မပြော တတ် ဘဲ၊ သိဗောလက်ဟု
ပြော၏။ ထိုသို့ပြောသောသူကိုဖမ်းဆီး၍၊ ယော်
ဒန်မြစ် ကူးရာ အရပ်၌ သတ်ကြ၏။ ထိုအခါ ဧဖ
ရိမ်အမျိုးသားလေးသောင်းနှစ်ထောင် သေကြ
၇ ၏။- ဂိလဒ်ပြည်သား ယေဖသ သည် ဣသရေလ
အမျိုးကိုခြောက်နှစ်အုပ်စိုးပြီးမှသေ၍၊ ဂိလဒ်
မြို့တမြို့၌သင်းဂြိုဟ်လေ၏။
၈ ယေဖသ နောက်မှ၊ ဗက်လင်မြို့သား ဣဗဇန်
သည်၊ ဣသရေလအမျိုးကိုအုပ်စိုး၏။- ထိုမင်း
၉ သည်သားသုံးဆယ်၊သမီးသုံးဆယ်ရှိ၏။သမီးများ
တို့အခြားတပါးသို့စေလွှတ်၍၊ချွေးမသုံးဆယ်
၁၀ ကိုယူထိမ်းမြားလေ၏။- ဣဗဇန်သည် ဣသရေလ အ
မျိုးကိုခုနစ်နှစ်အုပ်စိုးပြီးမှသေ၍၊ ဗက်လင်မြို့
၁၁ ၌ သင်းဂြိုဟ် လေ၏။- ဣဗ ဇန် နောက် မှ၊ ဇာဗု
လုန်အမျိုးသား ဧလုန်သည်၊ ဣသရေလအမျိုး
၁၂ ကို ဆယ် နှစ် အုပ် စိုး၏။- ထိုမင်း သေ၍၊ ဇာဗု
၁၃ လုန်ခရိုင်၊ အာဇလုန် မြို့၌ သင်းဂြိုဟ်လေ၏။- ဧ
လုန် နောက်မှ၊ ပိရသုန်မြို့နေ၊ ဟိလေလ၏ သား
အာဗဒုန်သည်၊ ဣသရေလအမျိုးကိုအုပ်စိုး၏။-
၁၄ ထိုမင်းသည် သားလေးဆယ်၊ မြေးသုံးဆယ် ရှိ
၍၊ သားမြေးတို့သည်မြည်းခုနစ်ဆယ်သော မြည်းငယ်
၁၅ တို့ကို စီးကြ၏။- ပိရသုန် မြို့နေ၊ ဟိလေလ သား
အာဗဒုန်သည်၊ ဣသရေလအမျိုးကိုရှစ်နှစ်အုပ်
စိုးပြီးမှသေ၍၊ ဧဖရိမ် ခရိုင်၊ ပိရသုန်မြို့၊ အာမ
လက် တောင်ပေါ်မှာသင်းဂြိုဟ်လေ၏။

၁၃

၁ တဖန် ဣသရေလအမျိုးသားတို့သည်၊ထာဝ
ရဘုရားရှေ့တော်၌ဒုစရိုက်ကိုပြုသောကြောင့်၊
ထာဝရဘုရားသည်သူတို့ကိုဖိလိတ္တိလူတို့ထက်
၂ သို့ အနှစ်လေးဆယ်ပတ်လုံးအပ်တော်မူ၏။-ဒန်
အမျိုး၊ ဇောရာမြို့သားမာနောဟအမည်ရှိသောသူ
ထ ထောက် ရှိ၏၊ သူ ၏ မယား သည် မြုံ သော
၃ ကြောင့် သားမဖွား။- ထာဝရဘုရား၏ ကောင်း
ကင်တမန်သည် ထိုမိန်းမ အား ကိုယ်ထင် ရှား ၍၊
သင် သည် မြုံ သော ကြောင့် သား မ ဖွား သော်

လည်း၊ယခုပဋိသန္ဓေယူ၍၊သားယောက်ျားကို
၄ ဖွားမြင်လိမ့်မည်။- သို့ဖြစ်၍၊ သတိပြုလော့။ စ
ပျစ်ရည်ကိုမသောက်နှင့်၊သေရည်သေရက်ကို
မသောက် နှင့်၊ မစင်ကြယ်သော အစာကိုမစား
၅ နှင့်။-အကြောင်းမူကား၊ပဋိသန္ဓေယူ၍ဖွားမြင်
ထတ့်သော သား ယောက်ျား သ ည် ဆံပင် ရိတ်
ခြင်းကိုမခံဘဲ၊အမိဝမ်းထဲမှစ၍၊ဘုရားသခင်၏
နာဇရိလူဖြစ်ရလိမ့်မည်။ သူသည်လည်း၊ဣသ
ရေလအမျိုးကိုဖိလိတ္တိလူတို့လက်မှကယ်နှုတ်စ
၆ ပြုလိမ့်မည်ဟုဆို၏။- ထိုမိန်းမသည်လည်း၊မိမိခင်
ပွန်းထံသို့ သွား၍၊ ဘုရားသခင်၏ ကောင်းကင်
တမန် မျက် နှာ ကဲ့သို့၊ ကြောက်မက်ဖွယ်သော
မျက် နှာ ရှိ သော၊ ဘုရားသခင်၏လူတယောက်
သည်အကျွန်ုပ်ဆီသို့လာ၏။အဘယ်က လာ သ
နည်းဟု၊အကျွန်ုပ်သည်းမမေး။သူသည်လည်း၊
၇ မိမိအမည်ကိုမပြော။-သူကထဉ်း၊သင်သည်ပဋိ
သန္ဓေ ယူ ၍၊ သား ယောက်ျား ကို ဖွား မြင်လိမ့်
မည်။ စပျစ်ရည်ကိုမသောက်နှင့်၊ သေရည်သေ
ရက်ကိုမသောက်နှင့်၊မစင်ကြယ်သောအစာကို
မစားနှင့်၊ အကြောင်းမူကား၊ ထို သူငယ်သည်၊
အမိ ဝမ်း ထဲ မှ စ ၍ သေ သော နေ့ တိုင် အောင်၊
ဘုရားသခင် ၏ နာဇရိလူ ဖြစ်ရလိမ့်မည်ဟု၊ အ
ကျွန်ုပ်အား မိန့်မြွက်ကြောင်းကိုပြောဆိုလေ၏။
၈ ထိုအခါမာနောဟက၊အိုဘုရားရှင်၊ အကျွန်ုပ်တို့
သည် ဖွားမြင် ထတ့်သောသူငယ်၌ အဘယ်သို့
ပြုရမည်ကို၊ ဘုရားသခင်၏တမန်တော်သည်တ
ဖန်လာ၍သွန်သင်စေတော်မူပါဟု၊ထာဝရဘုရား
၉ အား တောင်း လျှောက်သော်၊- ထာဝရ ဘုရား
သည် မာ နော် စကား ကို နား ထောင် တော် မူ၍၊
ဘုရားသခင် ၏ ကောင်းကင် တမန်သည်၊ လယ်
ထုပ်ရာ အရပ်၌ ထိုင်လျက် ရှိသော ထိုမိန်းမ ဆီသို့
၁၀ ထပ်ပြန်၏၊ထိုအခါခင်ပွန်းမာနောဟမရှိ။-မိန်းမသည်
မိမိခင်ပွန်းထံသို့ အလျင်အမြန်ပြေး၍၊တနေ့က
လာသောသူသည်၊ယခုလာရောက် ပြီဟုကြား
၁၁ ပြောလျှင်၊- မာနောဟသည်ထ၍မယားနှင့်အတူ
ထိုသူထံသို့သွားပြီးလျှင်၊ သင်သည်ဤမိန်းမအား
ပြောသောသူမှန်သလောဟုမေးသော်၊မှန်သည်
၁၂ ဟုဆို၏။-မာနောဟကထဉ်း၊ကိုယ်တော်၏စကား၊
ပြည့်စုံ ပါစေ သော၊ သူငယ် သည် အထယ် သို့
သောသူဖြစ် ပါ လိမ့်မည်နည်း၊သူ၌ အထယ်သို့
၁၃ ပြုရပါမည်နည်းဟုမေးသော်၊-ထာဝရဘုရား၏
ကောင်းကင်တမန်က၊ငါပြောသမျှကိုမိမ္မရှောင်

၁၄ ရမည်၊ စပျစ်ပင်မှဖြစ်သမျှကိုမစားရ။ စပျစ်ရည်မှ
စ၍သေရည်သေရက်ကိုမသောက်ရ။ မစင်ကြယ်
သောအရာကိုမစားရ၊ ငါမှာထားသမျှ အတိုင်း
စောင့်ရှောက်ရမည်ဟု၊ မာနော်အားပြောဆို၏။
၁၅ မာနော်က ထည်း၊ ကိုယ်တော် အဖို့ ဆိတ်သ
ငယ်ကို မပွင်ဆင်မှီ တိုင်အောင်၊ ကိုယ်တော်ကို
ဆီး တား ပါရစေဟု၊ ထာဝရ ဘုရား၏ ကောင်း
၁၆ ကင် တမန် အား ဆို လျှင်၊- ထာ ဝ ရ ဘုရား ၏
ကောင်း ကင် တ မန် က၊ ငါကို ဆီး တား သော်
ထည်း၊ သင်၏စားစရာကိုငါမစား။ မီးရှို့ရာယဇ်
ကိုပူဇော်လိုလျှင်၊ ထာဝရဘုရားအား ပူဇော်ရ
မည်ဟု၊ မာနော်အား ဆိုပြန်၏။ သူသည်ထာဝရ
ဘုရား၏ ကောင်းကင်တမန်ဖြစ်သည်ကိုမာနော်
၁၇ မသိသေး။- မာနော်ကလည်း၊ ကိုယ်တော်စကား
ပြည့်စုံသောအခါ၊ အကျွန်ုပ်တို့သည်ကိုယ်တော်
ကို ရိုးသေရမည် အကြောင်း၊ ကိုယ်တော်၏ အ
မည်ကား၊ အဘယ်သို့နည်း ဟု၊ ထာဝရဘုရား
၁၈ ၏ကောင်းကင်တမန်အား မေးသော်၊- ထာဝရ
ဘုရား၏ ကောင်း ကင် တမန်က၊ ထုံးပြောဖွယ်
ဖြစ်သောငါ့အမည်ကိုအဘယ်ကြောင့်မေးသနည်း
၁၉ ဟု ဆို၏။- မာနော်သည် ဆိတ်သငယ်နှင့် ဘော
ဇဉ်ပူဇော် သကာ ကို ယူ ၍၊ ကျောက်ပေါ်မှာ
ထာဝရ ဘုရားအား ပူဇော် လေ၏။ ထိုအခါ မာ
နော်ထင်မယားတို့သည်ကြည့်၍မြင်ရသောအံ့
၂၀ ပြောဖွယ်ဟူမူကား၊- မီးလျှံသည်ယဇ်ပလ္လင်
ပေါ်က မိုဃ်း ကောင်း ကင်သို့ တက် စည်တွင်၊
ထာဝရဘုရား၏ ကောင်းကင်တမန်သည် ယဇ်
ပလ္လင်မီးလျှံ၌ တက်လေ၏။ မာနော်ထင်မယား
တို့သည် ကြည့် ၍ မြင်လျှင်၊ မြေပေါ်မှာပြပ်ဝပ်
၂၁ လျက်နေကြ၏။-ထာဝရဘုရား၏ကောင်းကင်တ
မန်သည်၊ မာနော်ထင်မယားတို့အားတဖန်မပေါ်
ထာ၊ ထိုအခါ မာ နော် သည် ထာ ဝရ ဘုရား ၏
၂၂ ကောင်းကင် တမန်ဖြစ်သည်ကိုသိ၏။- မာနော်
ကလည်း၊ ငါတို့သည်ဘုရားသခင်ကိုမြင်သော
ကြောင့်၊ ဆက်ဆက် သေတော့ မည်ဟု၊ မယား
၂၃ အားပြောသော်၊-မယားက၊ ထာဝရဘုရားသည်
ငါတို့ကိုသတ်ခြင်းငှါအလိုတော်ရှိလျှင်၊ မီးရှို့ရာ
ယဇ်နှင့်ဘောဇဉ်ပူဇော်သကာကို ငါတို့လက်
မှခံယူတော်မမူ၊ ဤအခြင်း အရာ အလုံး စုံတို့ကို
ထင်ရှားပြတော်မမူ၊ ယခုအခါ၌ ဤသို့သောစကား
ကိုထည်း မိန့်တော်မမူဟုပြန်ပြော၏။
၂၄ ထိုမိန်းမသည် သားယောကျ်ားကို ဖွားမြင်၍၊ ရှံ
ဆုန်အမည်ဖြင့်မှည့်၏။ သူငယ်သည်ကြီးပွား၍၊
၂၅ ထာဝရဘုရား ကောင်းကြီး ပေးတော်မူ၏။-ထာ
ဝရဘုရား၏ ဝိညာဉ်တော်သည်၊ ဇောရာ မြို့နှင့်
ဧရှတောလမြို့စပ်ကြား၊ ဒန်အမျိုးတပ်စခန်းတခါတ
ထေ နှိုးဆော်စ ပြုတော်မူ၏။

၁၄

၁ တရံရောအခါ၊ ရှံဆုန်သည်တိမနတ်မြို့သို့သွား
၍၊ ထိုမြို့၌ဖိလိတ္တိအမျိုးဖြစ်သောမိန်းမတယောက်
၂ ကိုမြင်လျှင်၊- မိဘထံသို့ပြန်လာ၍၊ တိမနတ်မြို့
၌ဖိလိတ္တိ အမျိုးဖြစ်သော မိန်းမတယောက်ကိုမြင်
ခဲ့ပြီ။ ကျွန်ုပ်ကြင်ဖက်ဖြစ်ဖို့ရာတောင်း၍ပေးပ
၃ ဟု ဆို သော်၊- မိဘ တို့က၊ သင်သည် အရေဖျား
လှီးခြင်းကိုမခံသောဖိလိတ္တိလူထဲ၌တွင်မယားကို
သွား၍ ယူ ရ မည် အ ကြောင်း၊ သင်၏ ညီ အစ်
ကိုသို့၊ ငါ တို့ အမျိုး သား ချင်း ထဲ၌ ထိုတွင်၊ မိန်း
မ တယောက် မျှ မရှိ သော ဟု ဆို သော် ထည်း၊ ရှံ
ဆုန်က၊ ထိုမိန်းမကိုတောင်း၍ ပေးပါ၊ အကျွန်ုပ်နှစ်
၄ သိမ့်ပါသည်ဟု အဖအား ပြောဆို၏။ ထာဝရ
ဘုရား စီရင်တော်မူသောအားဖြင့်၊ ရှံဆုန်သည်
ဖိလိတ္တိလူတို့၌အမှုရှာကြောင်းကိုမိဘတို့သည်
မရိပ်မိကြ။ ထိုကာလ၌ ဖိလိတ္တိလူတို့သည် ဣသ
၅ ရေလ အမျိုးကို အုပ် စိုး သ တည်း။- ထိုအခါ ရှံ
ဆုန်သည်မိဘ နှင့်တကွ တိမနတ်မြို့သို့ သွား၍၊
တိမနတ်စပျစ်ဥယျာဉ်များသို့ရောက်လျှင်၊ ခြင်္သေ့
ပျိုတကောင်သည်သူကိုတွေ့၍ဟောက်လေ၏။-
၆ ထို အခါ ရှံဆုန် ထက်၌ တ စုံ တစုံမျှ မပါ သော်
ထည်း၊ ထာဝရဘုရား ၏ ဝိညာဉ် တော်သည် သူ
အပေါ်မှာသက်ရောက်သဖြင့်၊ သူသည်ဆိတ်သ
ငယ်ကို ဆွဲဖြတ် သကဲ့သို့၊ ထို ခြင်္သေ့ကို ဆွဲဖြတ်
၏။ သို့ရာတွင်၊ မိမိပြုသောအမှုကို မိဘတို့အား
၇ မကြားမပြောဘဲနေ၏။- မြို့သို့ရောက်၍၊ မိန်းမနှင့်
၈ နှုတ်ဆက်သဖြင့်ရှံဆုန်သည်နှစ်သိမ့်၏။-အမှိန်
နေ၍၊ ထိုမိန်းမကိုသိမ်းယူခြင်းငှါသွားစည်အခါ၊
ခြင်္သေ့အကောင်ကိုကြည့်ရှုအံ့သောငှါ၊ လမ်းမှ
လွှဲသွား၍၊ ခြင်္သေ့ အကောင် ထဲမှာ ပျားအုံနှင့်
၉ ပျားရည် ရှိသည်ကို တွေ့ မြင် လျှင်၊- နှိုက် ယူ၍
စား လျက် ခရီး သွား လေ၏။ မိဘထံသို့ ရောက်
သော်၊ ပေး၍၊ သူတို့သည် ထည်း စား ကြ၏။ သို့
ရာတွင်၊ ထိုပျားရည်ကို ခြင်္သေ့ အကောင်ထဲက
နှိုက်ယူကြောင်းကိုမကြားမပြောဘဲနေ၏။
၁၀ အဖသည်လည်း၊ မိန်းမနေရာအရပ်သို့ သွားပြန်
၍၊ ရှံဆုန်သည် လူပျို ထုံးစံ အတိုင်း ပွဲလုပ် လေ

၁၁ ၏။— ထိုအရပ်သား ထိုထည်မှ ရှံဆုန်ကို မြင်သော
အခါ၊ သူနှင့်အတူ ပွဲခံခြင်းငှါ အပေါင်းအဖော်
၁၂ သုံးဆယ်တို့ကို ခေါ်ခဲ့ကြ၏။— ရှံဆုန်ကလည်း၊
သင်တို့အား စကားဝှက်ကိုငါပြောမည်။ ပွဲခံရာခုနှစ်
ရက်တွင်ဖော်ပြနိုင်လျှင်၊ ချိုထည်သုံးဆယ်၊
၁၃ အင်္ကျီသုံးဆယ် ကို ငါပေးမည်။— မဖော်မပြနိုင်
လျှင်၊ သင်တို့သည်ချိုထည်သုံးဆယ်၊ အင်္ကျီသုံး
ဆယ်ကိုငါ့အားပေးရမည်ဟု ဆိုသော်၊ သူတို့က၊
သင့်စကားဝှက်ကို ငါတို့အား ကြား ပြောပါဟု
၁၄ ဝန်ခံကြ၏။— ရှံဆုန်ကလည်း၊ စားတတ်သောသူ
၏အထဲကအစာ၊ ထန်စွမ်းသောသူ၏ အထဲက
အချို ထွက်သေ၏ဟု ဆို၏။ ထိုစကားဝှက်အနက်
ကိုသူတို့သည် သုံးရက်ပတ်လုံးရှာ၍ မတွေ့နိုင်
၁၅ ကြ။— ခုနစ်ရက်မြောက်၌၊ သူတို့က၊ သင်၏လင်
သည်စကားဝှက်အနက်ကိုဖော်ပြစေခြင်းငှါ သူ
ကိုချော့မော့ရမည်။ သို့မဟုတ်၊ သင်နှင့် တကွ
သင့်အဆွေအမျိုးကိုမီးရှို့မည်။ ငါတို့ဥစ္စာကိုလု
လူခြင်းငှါ၊ ငါတို့ကိုခေါ်ဖိတ်သလောဟု၊ ရှံဆုန်
၁၆ ၏မယားကို ဆိုသောကြောင့်၊— သူသည်ထင်ရှေ့
မှာငိုကြွေး၍၊ သင်သည်ငါ့ကိုမချစ်၊ မုန်းပါ၏။ ငါ
အမျိုးသားချင်းတို့အား စကားဝှက် ကိုပြော
သော်လည်း၊ အနက်ကိုငါ့အားမပြပါတကားဟု
ဆို၏။ ရှံဆုန်ကလည်း၊ ငါသည် ကိုယ် မိဘကို
မျှမပြသဲ၊ သင့်အားပြရမည်လောဟု ဆိုသော်
၁၇ လည်း၊— ပွဲခံရာခုနစ်ရက်စေ့အောင် ထင်ရှေ့မှာ
ငိုကြွေး၍၊ ခုနှစ်ရက်မြောက်သောနေ့၌အထွန်ပူ
စာသောကြောင့် အနက် ကိုဖော်ပြ၏။ မိန်းမသည်
ထင်ဦးအမျိုးသားချင်းတို့အားပြန်ပြောလေ၏။—
၁၈ မြို့သားတို့သည် ခုနှစ်ရက် မြောက်သောနေ့၊ နေ
မဝင်မှီထာ၍၊ ပျားရည်ထက် အဘယ် အရာ ချို
သနည်း၊ ခြင်္သေ့ထက် အဘယ်အရာသန်စွမ်း
သနည်းဟုဖော်ပြောကြ၏။ ရှံဆုန်ကလည်း၊ သင်
တို့သည် ငါ့နွားမရှိနှင့်မထွန်လျှင်၊ ငါ့စကားဝှက်
၁၉ အနက်ကိုရှာ၍မတွေ့ဟု ဆို၏။— ထာဝရဘုရား၏
ဝိညာဉ်တော်သည်ရှံဆုန်အပေါ်မှာသက်ရောက်
သဖြင့်၊ သူသည်အာရှကေလုန်မြို့သို့သွား၍၊ မြို့
သားသုံးဆယ်ကို သတ်ပြီးမှ၊ သူတို့ဥစ္စာကိုလု
ယူ၍၊ စကားဝှက်အနက်ကို ဖော်ပြသော သူတို့
အား၊ အဝတ် စုံတို့ကိုပေးပြီးမှ၊ အမျက်ထွက်၍၊
၂၀ မိမိ အဘ အိမ်သို့ ပြန်သွားလေ၏။— မယား ကို
ကား၊ ရှံဆုန် ပေါင်း ဖော်သော အဆွေ ခင်ပွန်း
အားပေးစားလေသတည်း။

၁၅

၁ နောက်တစ်ခုန်ချိန်းဂျုံစပါးရိတ်ရာကာလ၌ ရှံဆုန်
သည်၊ ဆိတ် ထင်ထယ် ပါ လျက်၊ မိမိ မယားကို
ကြည့်ရှုခြင်းငှါသွား၍၊ ထုတ်ခန်းထဲမှာသူနှင့်
အတူ အိပ်မည်ဟုဆိုသော်၊ ယောက္ခမသည်ဆီး
၂ တား၍၊— သင်သည် ငါ့သမီးကိုအထက်ဆက်မုန်းသဖြင့်
ဟု၊ ငါအထင် ရောက် သော ကြောင့်၊ သင့် အ
ပေါင်းအဖော်အားငါပေးစားပြီ။ ညီမသည်
ထိုထက်သာ၍လှသည် မဟုတ်လော၊ အစ်မ၏
၃ ကိုယ်စားညီမကို ယူပါလော့ဟု ဆို၏။— ထိုအမှု
ကိုထောက်၍၊ ရှံဆုန်က၊ ငါသည်ဖိလိတ္တိလူတို့၌
အပြစ် ရှိသော် ထည်း။ သူတို့သည် ငါ့ကိုအပြစ်
၄ ထင်စရာမရှိဟု ဆိုသည်နှင့်အညီ၊— သွား၍၊ မြေ
ခွေးသုံးရာတို့ကို ဖမ်းပြီးမှ၊ မြေခွေး အမြီး တစ်ခု
နှင့်တစ်ခုကို ပေါင်းလျက်၊ အမြီးနှစ်ခုကြား၌ မီး
၅ ရှူးကို စည်း၍၊— မီးရှူးတို့ကိုမီးညှိသဖြင့်၊ ဖိလိတ္တိ
လူတို့ စပါး လယ်ထဲသို့ လွှတ် လိုက်၍၊ စပါးပင်
တိုင်း၊ ကောက် လှိုင်းကို ၎င်း၊ စပျစ်ဥယျာဉ်၊ သံ
၆ လွင်ဥယျာဉ်တို့ကို၎င်းမီးလောင်စေ၏။— ဖိလိတ္တိ
လူတို့ကလည်း၊ ဤအမှုကိုအဘယ်သူပြုသနည်း
ဟုမေးမြန်းသော်၊ ထိမနတ်မြို့သား၏ သမက်ရှံ
ဆုန်ပြုပြီ။ သူ၏မယားကိုသူ၏ အပေါင်းအဖော်
အား ပေး စားပြီ တကား ဟု ပြန်ပြော လျှင်၊ ဖိ
လိတ္တိ လူတို့သည်လာ၍၊ ထိုမိန်းမနှင့်သူ၏ အဘကို
၇ မီးရှို့ကြ၏။— ရှံ ဆုန်ကလည်း၊ ထို သို့ ပြု သော
ကြောင့်၊ ငါသည်မိတ်ပြေအောင်ပြုမည်။ မိတ်ပြေ
၈ ပြီးမှ၊ ပြိမ်သက်စွာနေမည်ဟု ဆိုလျက်၊— သူတို့
ကို ကြီးစွာသောလုပ်ကြံခြင်း အားဖြင့်၊ တပြိုင်
နက် ရိုက်သတ် ပြီးလျှင်၊ ဧတံ ကျောက် ထိပ်သို့
သွား၍နေ၏။
၉ ထိုခဏ်ဖိလိတ္တိလူတို့သည်ယုဒပြည်သို့ရှိသွား
၍ တပ်ချသဖြင့်၊ လေဟိအရပ်၌ အနှံ့အပြားနေ
၁၀ ကြ၏။— ယုဒလူတို့ကလည်း၊ အဘယ်ကြောင့်ရှိ
လာကြသနည်းဟု မေးသော်၊ ငါတို့၌ ရှံဆုန်ပြု
သကဲ့သို့၊ သူကို ချည်နှောင်၍ ပြုခြင်းငှါ ရှိလာ
၁၁ သည်ဟု ပြန် ပြောကြ၏။— ထိုအခါ ယုဒ လူ သုံး
ထောင်တို့သည် ဧတံကျောက်ထိပ်သို့ သွား၍၊ ဖိ
လိတ္တိလူတို့သည်ငါတို့ကိုအစိုးရကြောင်းကိုသင်
မသိသလော၊ သင်သည် ငါတို့၌ အဘယ်သို့ပြုသ
နည်းဟုမေးသော်၊ ငါ၌သူတို့ပြုသကဲ့သို့သူတို့၌
၁၂ ငါပြုပြီဟုပြန်ပြော၏။— သူတို့ကလည်း၊ သင့်ကို
ချည်နှောင်၍၊ ဖိလိတ္တိလူတို့လက်သို့အပ်ခြင်းငှါ

ယခုငါတို့လာကြပြီဟုဆိုသော်၊ ရှံဆုန်က၊သင်
တို့သည်ကိုယ်တိုင်ငါ့ကိုမလုပ်ကြပါဟုကျိန်ဆို
၁၂ ကြလော့ဟု ဆိုလျှင်၊ - သူတို့က၊ ငါတို့သည် မ
လုပ်ကြပါ။ကြပ်ကြပ်ချည်နှောင်၍၊ သူတို့လက်
၌အပ်မည်။ အကယ်စင်စစ်ကိုယ်တိုင် သင့်ကိုမ
သတ်ပါဟုဆိုလျှက်၊ ကြိုးသစ်နှစ်စင်းဖြင့်ချည်
၁၃ နှောင်၍၊ ကျောက်ပေါ်ကဆောင်ခဲ့ကြ၏။-လေ
ဟိအရပ်သို့ ရောက် သော အခါ၊ ဖိလိတ္တိ လူတို့
သည်ကြွေးကြော်ကြ၏။ ထာဝရဘုရား၏ဝိညာဉ်
တော်သည်သူအပေါ်မှာသက်ရောက်သဖြင့်၊သူ
လက်၌ချည်သောကြိုးတို့သည်မီးထိသောပိုက်
ဆန်ကဲ့သို့ဖြစ်၍၊အချည်အနှောင်ကျွတ်လေ၏။-
၁၄ သူသည် ထည်း မြည်းမေးရိုးထက်ထက်ကို တွေ့၍
ကိုင်ယူ ပြီးလျှင်၊ လူ တထောင် တို့ကို သတ် လေ
၁၅ ၏။-သတ်ပြီးလျှင်၊မြည်းမေးရိုးဖြင့်အပုံပုံ၊မြည်းမေးရိုး
ဖြင့်လူတထောင်ကို ငါသတ် လေပြီဟု ဆိုသော
၁၆ နောက်၊- မြည်းမေးရိုးကို ပြစ်လိုက်၍၊ ထိုအရပ်ကို
၁၇ ရာမတ် လေဟိ အမည်ဖြင့် တွင်လေ၏။- အလွန်
ရေငတ်၍၊ ထာဝရဘုရားကို ဆုတောင်းလျှက်၊
ကိုယ်တော်သည် ဤကြီးစွာသောကယ်တင်ခြင်း
ကိုကိုယ်တော်၏ကျွန်ထက်၌ ပေးတော်မူပြီ။မှ၊
ယခုအကျွန်ုပ်သည်ရေငတ်သဖြင့်သေ၍၊အရေ
ဖျားလှီးခြင်းကို မခံသော လူတို့ထက်သို့ ရောက်
၁၈ ရပါမည်လော ဟု လျှောက်သော်၊- လေဟိအ
ရပ်၌ရှိ၍ဝှမ်းရာကိုဘုရားသခင်ဖောက်တော်မူ
၍၊ ရေထွက်လေ၏။ သူသည် ရေကို သောက်သ
ဖြင့်အသက် ရှုပြန်၍ အားဖြည့်လေ၏။ သို့ဖြစ်
၍၊ ထိုရှိ၍ဝှမ်း ရာကို အင်္ဟက္ကောရ အမည် ဖြင့်
တွင်၍၊ ယနေ့တိုင် အောင်လေဟိ အရပ်၌ ရှိသ
၁၉ တည်း။ ရှံဆုန် သည်လည်း၊ဖိလိတ္တိလူတို့ထက်
ထက်၊ ဣသရေလအမျိုးကို အနှစ်နှစ်ဆယ်တုပ်
ချုပ်လေ၏။

၁၆

၁ နောက်တဖန်ရှံဆုန်သည် ဂါဇမြို့သို့သွား၍၊
ပြည်တန်ဆာမိန်းမကိုတွေ့ပြီးလျှင်၊သူ့ဆီသို့ဝင်၍
၂ နေ၏။- ရှံဆုန် ရောက် ကြောင်းကို ဂါဇမြို့ သား
တို့သည်ကြားလျှင်၊ဝိုင်းထားလျှက်၊မြို့တံခါး၌
၌တညည့်လုံးချောင်းမြောင်းလျှက်၊နံနက်မိုးလင်း
လင်းသော အခါ၊ သူကို သတ်မည် ဟုဆို၍ တ
၃ ညည့်လုံး ငြိမ်သက်စွာ နေကြ၏။- ရှံဆုန်သည်
သန်းခေါင် တိုင်အောင် အိပ်ပြီးမှ သန်းခေါင်အ
ချိန်၌ထ၍၊ မြို့တံခါး ရွက်တို့ကို၊ တံခါးတိုင်
ကန့်လန့် ကျင်နှင့် တကွ ယူ၍၊ ပခုံးပေါ်မှာထင်
လျှက်ထမ်းသွား၍၊ဟေဗြုန်မြို့ရှေ့၊တောင်ပေါ်
၌ပြစ်ထားလေ၏။
၄ နောက်တဖန် သောရက်ချိုင့်၌နေသော၊ ဒေလိ
လအမည်ရှိသောမိန်းမ တယောက်ကိုချစ်ပြန်၏။-
၅ ဖိလိတ္တိ မင်းတို့သည် ထိုမိန်းမဆီသို့လာ၍၊ ရှံဆုန်
၌ကြီးသော ခွန် အားသည် အဘယ် အရာအား
ဖြင့်တည် သနည်း၊ သူကိုချည်နှောင်၍ နှိပ်စက်
ခြင်းငှါအဘယ် သို့တတ်နိုင်မည်နည်းဟု၊ သူကို
ချော့မော့၍ စုံစမ်းပါ။ ငါတို့သည် ဝိုင်း၍၊ ငွေ
၆ ဆယ်တပိဿာကိုပေးမည်ဟုဆိုကြ၏။- ဒေလိ
လကလည်း၊ သင်၌ကြီးသော ခွန်အား သည်အ
ဘယ်အရာ အားဖြင့် တည်သည်ကိုငှင်၊ သင့်ကို
နှိပ်စက်ခြင်းငှါ အဘယ် သို့ချည်နှောင်ရမည်ကို
၇ ငှင်ပြောပါဟု၊ရှံဆုန်အားတောင်းပန်သော်၊-ရှံ
ဆုန်က၊ တခါမျှမသွေ့ခြောက်သော၊လျှော်ကြိုး
မိမ်းခုနစ်စင်းနှင့်ငါ့ကို ချည်နှောင်လျှင်၊ ငါ၌ခွန်
အားလျော့၍၊ အခြား သောသူကဲ့သို့ငါဖြစ်လိမ့်
၈ မည် ဟု ပြော ဆို၏။- ထို အခါ ဖိလိတ္တိ မင်း တို့
သည်တခါမျှမသွေ့ခြောက်သောလျှော်ကြိုးမိမ်း
ခုနစ် စင်း တို့ကို ယူခဲ့၍၊ ထိုမိန်းမသည် ရှံဆုန်ကို
၉ ချည် နှောင် လေ၏။- ယောက်ျား အချို့တို့သည်
ထိုမိန်းမ၏ အိပ်ခန်းထဲမှာ ချောင်းမြောင်းလျှက်နေ
သည်ဖြစ်၍၊ မိန်းမက၊ ရှံဆုန်၊ ဖိလိတ္တိလူတို့သည်
သင့်ကိုတိုက်လာကြသည်ဟု ဆိုသော်၊သူသည်
မီးထိသော ပိုက်ဆန် ခြည်ကဲ့သို့၊ ထိုကြိုးတို့ကို
ဖြတ်လေ၏။ သို့ဖြစ်၍၊ သူ၏ ခွန် အားကို မသိရ
၁၀ ကြ။-ဒေလိလကလည်း၊ သင်သည်ငါ့ကိုကျီစား
၍၊ မုသာ ကို သာ ပြောပြီ။ သင့်ကို အဘယ်သို့
ချည်နှောင်ရမည်ကိုယခုပြောပါဟု၊ရှံဆုန်အား
၁၁ တောင်းပန်သော်၊- သူက၊ မသုံးဘူးသော ကြိုး
သစ်နှင့်ကြပ်ကြပ်ချည်နှောင်လျှင်၊ငါ၌ခွန်အား
လျော့၍၊ အခြားသောသူကဲ့သို့ ငါဖြစ်လိမ့်မည်
၁၂ ဟုပြောဆိုသည် အတိုင်း၊- ဒေလိလသည် ကြိုး
သစ်တို့ကို ယူ၍ ချည် နှောင် ပြီးမှ၊ ထို အခန်း၌
ချောင်းမြောင်းသောသူအချို့ ရှိနေလျှက်၊ရှံဆုန်၊
ဖိလိတ္တိ လူတို့သည် သင့်ကို တိုက် လာ ကြသည်
ဟုဆိုသော်၊ ရှံဆုန်သည် လက်ရုံး၌ ချည်သော
၁၃ ကြိုးတို့ကို၊ ထပ်ခြည်ကဲ့သို့ ဖြတ်လေ၏။- ဒေလိ
လ က လည်း၊ ယခု တိုင်အောင် သင် သည် ငါ့ကို
ကျီစား၍၊ မုသာကိုသာပြောပြီ။ အဘယ်သို့ချည်
နှောင်ရမည်ကိုပြောပါဟု၊ ရှံဆုန်အားတောင်း၊

ပန်သော်၊ သူက၊ ဆံပင်ခုနှစ်စုတို့ကိုရက်ကန်း
သာ၌ ရက်သွင်း၍၊ ထရံတွင် မှို့နှင့် မိုက်ထား
လျှင်၊ငါ၌ခွန်အားလျော့၍၊ အခြားသော သူကဲ့
သို့ငါဖြစ်လိမ့်မည် ဟု ပြောဆိုသည်အတိုင်း။-
၁၄ စေလိထသည်သူ၏ဆံပင် ခုနှစ်စုတို့ကိုရက်ကန်း
သား၌ရက်သွင်း၍၊ထရံတွင်မှို့နှင့်မိုက်ထား ပြီး
မှ၊ ရှံဆုန်၊ ဖိလိတ္တိလူတို့သည် သင့်ကို တိုက်ထာ
ကြသည် ဟု ဆို သော်၊ ရှံဆုန် နိုး၍၊ရက်ကန်း
ထတ်ထိပ်၊ မှို့၊ရက်ကန်းသားပါလျက် သွား၏။-
၁၅ စေလိထကထည်း၊ သင်သည်ငါ့ကို ချစ်သည်ဟု၊
မိတ်နှစ်ထုံးမပါတဲလျှက်၊ အဘယ်သို့ ပြောနိုင်
သနည်း၊ သင်၌ကြီးသောခွန်အားသည်အဘယ်
အရာ အားဖြင့် တည်သည်ကို မပြော၊ သုံးကြိမ်
တိုင်အောင်ငါ့ကိုကျီစားပြီဟု ဆို၏။
၁၆ ထိုသို့ စေလိထသည် နေ့တိုင်း ပူစာ၍၊ သူအ
သတ်သေလုအောင် နှောင့်ရှက်သော့ကြောင့်၊-
၁၇ ရှံဆုန် သည် မိမိမိတ် နှစ်လုံး၌ ရှိသမျှ အတိုင်း
ပြော၍၊ ဆံပင်ကို တခါမျှ မရိတ် သေး၊ အမိ
ဝမ်းထဲမှစ၍၊ ဘုရားသခင်၏ နာဇရိလူဖြစ်၏။ငါ
ဆံပင်ကို ရိတ်လျှင်၊ ငါ၌ ခွန်အားလျော့၍၊ အ
ခြားသောသူကဲ့သို့ ငါဖြစ်လိမ့်မည်ဟု ပြောဆို
၁၈ ၏။-ထိုသို့မိမိမိတ်နှစ်လုံးထဲမှာ ရှိသမျှအတိုင်း
ပြောကြောင်းကို စေလိထ သိလျှင်၊ ဖိလိတ္တိမင်း
တို့ကိုတစန်ခေါ်၍၊ ယခုတခါထာကြပါဦး၊ သူ
သည်မိမိမိတ်နှစ်ထုံး ရှိသမျှ အတိုင်း ပြောပြီဟု
မှာထိုတ်အဖြင့်၊ သူတို့သည် ငွေကို ဆောင်ယူခဲ့
၁၉ လျှက် ထာကြ၏။- စေလိထသည် ရှံဆုန်ခေါင်း
ကိုမိမိဒူးပေါ်မှာတင်လျှက်၊သူကိုအိပ်စေသဖြင့်၊
လူတယောက်ကို ခေါ်၍၊ သူ၏ ဆံပင်ခုနှစ်စုတို့
ကိုရိတ်စေပြီးမှ၊ သူ ကို နှောင့်ရှက်စပြု၍၊ သူ၏
၂၀ ခွန်အားသည် လျော့ပျောက်၏။- မိမ္မကထည်း၊
ရှံဆုန်၊ ဖိလိတ္တိလူတို့သည် သင့်ကိုတိုက်ထာကြ
သည်ဟု ဆိုသော်၊ ရှံဆုန်နိုး၍၊ ထာဝရ ဘုရား
ခွန့်တော်ရှုကြောင်းကိုမရိပ်မိသော့ကြောင့်၊ အ
ရင်ကဲ့သို့ငါထွတ်၍ အားထုတ်မည်ဟု အကြံရှိ
၂၁ သော်ထည်း။- ဖိလိတ္တိ လူတို့သည် ဖမ်းဆီး၍၊
သူ့ရှုတ်မိကိုဖောက်ပြီးမှ၊ ဂါဇမြို့သို့ယူသွားပြီး
လျှင်၊ ကြေးဝါ ကြိုး နှင့် ချည်နှောင်၍၊ ထောင်
အိမ်၌ကြိတ်ဆုံနှင့်ကြိတ်စေကြ၏။
၂၂ ရှံဆုန်ထံပင်ရိတ်သော နောက်၊တဖန်ပေါက်
၂၃ ဖြန်သောအခါ၊- ဖိလိတ္တိမင်းတို့က၊ငါတို့ဘုရား
သည် ငါတို့ရန်သူကို ငါတို့လက်သို့ အပ်တော်မူ

ပြီဟု ဆိုလျှက်၊သူတို့ဘုရားဒါဂုန်အားယဇ်ကြီး
ကိုပူဇော်၍၊ပျော်မွေ့ခြင်းကိုပြုအံ့သောငှါစည်း
၂၄ ဝေးကြ၏။-လူများတို့သည်ရှံဆုန်ကိုမြင်သောအ
ခါ၊ငါတို့ဘုရားသည်၊ငါတို့ပြည်ကိုဖျက်ဆီး၍၊
ငြဉ်သားအများတို့ကိုသတ်သော၊ငါတို့၏ရန်သူ
ကို၊ငါတို့လက်သို့အပ်တော်မူပြီဟု၊မိမိတို့ဘုရား
၂၅ ကိုချီးခွမ်း ကြ ၏။- မိတ်နှစ်လုံး ရွှင်ထန်းသော
အခါ၊ ရှံဆုန်ကိုခေါ်ခဲ့၊ ငါတို့အဖို့ ကစားပါသေ
စေဟုဆိုသဖြင့်၊ ရှံဆုန်ကိုထောင်အိမ်မှ ခေါ်ခဲ့
၍၊သူသည်ကစားရ၏။ သူကိုထည်း ဇရပ်တိုင်
၂၆ ကြား မှာ ထား ကြ၏။- ရှံဆုန် က ထည်း၊ ဇရပ်
တိုင်တို့ကိုငါမှီ၍ နေရအောင် လက်နှင့်စမ်းပါရ
စေ ဟု၊ ထက် ဆွဲ သော လူ က လေး ကို အ ခွင့်
၂၇ တောင်း၏။-ထိုဇရပ်၌ ယောကျ်ား မိမ္မတို့သည်
အပြည့်ရှိကြ၏၊ ဖိလိတ္တိမင်းအပေါင်းတို့လည်း
ပါကြ၏။ ဇရပ် မိုး ပေါ်မှာ လည်း၊ သုံး ထောင်
မျှသောက်သောယောကျ်ားမိမ္မတို့သည်၊ ရှံဆုန်
၂၈ ကစားသည်ကို ကြည့်ရှုလျှက် ရှိကြ၏။- ရှံဆုန်
ကထည်း၊ ဖိုအရှင်ထာဝရဘုရား၊ အကျွန်ုပ်ကို
အောင်းမေ့တော်မူပါ၊ အကျွန်ုပ်မျက်မိ နှစ်ဖက်
ကိုဖောက် သော ဖိလိတ္တိလူတို့၌ တပြိုင်နက် အ
ပြစ်ဒါဏ်ပေးနိုင်မည်အကြောင်း၊ ယခုတကြိမ်
မျှထာ ခွန်အားကို ပြန်ပေးတော်မူပါ ဘုရားဟု၊
၂၉ ထာဝရ ဘုရားအား ဆုတောင်း ပြီးမှ၊- ဇရပ်
ခေါင်တိုင် နှစ်တိုင်တို့ကို ထက်ျာထက်၊ ထက်ဝဲ
၃၀ ထက်နှစ်ဖက်နှင့် ကိုင်၍ မှီနေလျှက်၊-အကျွန်ုပ်
သည် ဖိလိတ္တိလူတို့နှင့် အတူသေပါရစေဟုဆို
လျှက်၊အားထုတ်၍၊ ကိုယ်ကို ညွှတ်ချသဖြင့်၊ဇ
ရပ်သည် မင်းများ၊ လူများအပေါင်းတို့အပေါ်
မှာထဲ၍ မိထေ၏၊ ထိုသို့ အသက်ရှင်စည် အခါ
သတ်ခဲ့သည်ထက်၊ သေစဉ်အခါသာ၍များသော
၃၁ သူတို့ကို သတ်လေ၏။- သညီများ၊ အဆွေအမျိုး
များအပေါင်းတို့သည်လာ၍၊အလောင်းကောင်
ကိုထမ်းသွား ပြီးလျှင်၊ ဇောရာမြို့နှင့် ဧရှတော
ထမြို့စပ်ကြားတွင်၊ အဖမာနော်၏ သင်းချိုင်း၌
သင်းဂြိုဟ်ကြ၏။ သူသည် ဣသရေလအမျိုးကို
အနှစ်နှစ်ဆယ်အုပ်မိုးသတည်း။

၁၇

၁ မိက္ခာအမည် ရှိသော ဧဖရိမ် တောင်သားတ
၂ ယောက် ရှိ၏။- သူသည် အမိအား၊ ဖိုအမေ၊
ပျောက်သောငွေ၊ အကျွန်ုပ်ရှေ့မှာကျိန်ဆဲသော
စကားကိုပြောသောငွေ အဃ် တပိဿာ သည်



 

အကျွန်ုပ်၌ရှိပါ၏၊အကျွန်ုပ်ယူမိပြီဟု ဆိုသော်၊
အမိက၊ငါ့သား၊ ထာဝရဘုရားကောင်းကြီးပေး
၃ တော်မူပါစေ သော ဟု ဆို၏။ ထိုငွေ အသပြာ
ဆယ်တထောင်တရာကိုအမိအားပြန်ပေးသောအခါ၊ အမိက၊
ငါ့သားသည် ထုသော ရုပ်တုနှင့် သွန်းသောရုပ်
တုကိုလုပ်စရာအိုး၊ဤငွေရှိသမျှကိုထာဝရဘုရား
၄ အားငါပူဇော်နှင့်ပြီ။-သို့ဖြစ်၍၊ငါ့သားအားထ
ရုငါပြန်ပေးမည်ဟု ဆိုသော်လည်း၊ သားသည်
ထိုငွေကို အမိအားပြန်ပေး၏၊အမိသည်လည်း၊
နှစ်ပိသာ ကို ယူ၍၊ ပန်းတိမ် သမား၌ အပ် သ
ဖြင့်၊ သူသည်ထုသော ရုပ်တု နှင့် သွန်းသောရုပ်
တုကိုလုပ်၍၊ ရုပ်တုတို့သည် မိက္ခာအိမ်၌ရှိ၏။-
၅ ထိုလူမိက္ခာသည်ဘုရားကျောင်း ရှိ၍၊သင်တိုင်း
တော်နှင့်တေရပ်ရုပ်တုကိုလုပ်ပြီးမှ၊မိမိသားတ
ယောက်ကိုမိမိယဇ်ပုရောဟိတ်အရာ၌ခန့်ထား
၆ လေ၏။-ထိုကာလ၌ဣသရေလရှင်ဘုရင်မရှိ၊လူ
တိုင်းမိမိမိတ်အလိုရှိသည့်အတိုင်းပြုသတည်း။
ယုဒအမျိုးနှင့်စပ်ဆိုင်သောဗက်လင် ယုဒ မြို့
သားလေဝိအမျိုးလုလင်တယောက်သည်၊ဗက်
၈ လင်မြို့မှာ တည်းခို၍ နေပြီးလျှင်၊-တခန်းထွက်
သွား၍ တည်း ခို စရာ အရပ် ကို ရှာ လျက် ခရီး
သွားသဖြင့်၊ဧဖရိမ်တောင်၊မိက္ခာအိမ်သို့ရောက်
၉ လေ၏။ မိက္ခာကလည်း၊သင်သည်အဘယ်က
လာသနည်းဟုမေးသော်၊လုလင်က၊ငါသည်ယု
ဒမြို့ဗက်လင်မြို့သားလေဝိလူဖြစ်၏၊ တည်းခို
၁၀ စရာ အရပ် ကို ရှာ ၏ဟု ပြန်ပြောသော်၊-မိက္ခာ
က၊ အကျွန်ုပ် နှင့် အတူ နေပါ၊ အကျွန်ုပ်၏ အဖ၊
အကျွန်ုပ်၏ ယဇ်ပုရောဟိတ် လုပ်ပါ၊ အကျွန်ုပ်
သည်တနှစ်တနှစ်လျှင်၊ငွေအကျပ် တဆယ် နှင့်
အဝတ်စုံကိုင်၊စားစရာကိုင်ပေးပါမည်ဟုပင့်
၁၁ ဖိတ်သောအခါ၊လေဝိလူသည်ဝင်၍၊-ထိုသူနှင့်
အတူ နေခြင်းငှါ အလိုရှိသဖြင့်၊ သားကဲ့သို့ဖြစ်
၁၂ လေ၏။-မိက္ခာသည်လည်း၊ ထိုလေဝိလုလင်ကို
မိမိ ယဇ် ပုရောဟိတ် အရာ၌ ခန့်ထားသည် အ
တိုင်း၊ လုလင် သည် ယဇ် ပုရော ဟိတ် လုပ်၍
၁၃ မိက္ခာအိမ်၌နေ၏။-မိက္ခာကလည်း၊ယခုမှာလေ
ဝိ လူ သည် ငါ ၏ ယဇ် ပု ရော ဟိတ် ဖြစ် သော
ကြောင့်၊ ထာဝရ ဘုရားသည် ငါ၌ ကျေးဇူးပြု
တော်မူမည်ကိုငါသိသည်ဟုဆို၏။

၁၈

၁ ထိုကာလအခါဣသရေလရှင်ဘုရင်မရှိစည်၊
ဒန်အမျိုးသားတို့သည် အမွေခံစရာမြေကိုရှာ
ကြ၏၊ထိုကာလတိုင်အောင်၊ အခြားသောဣသ
ရေလအမျိုးတို့တွင်၊အမွေခံထိုက်သည်အတိုင်း
၂ မခံရသေး။-သို့ဖြစ်၍၊ ဒန်အမျိုးသားတို့သည်
ပြည်ကိုကြည့်ရှု စူးစမ်းခြင်းငှါ မိမိတို့အမျိုး
သား၊ ခွန်အားကြီးသော သူငါးယောက်တို့
ကို၊ သူတို့နေရာအရပ်ဇောရာမြို့၊ဧရှတောလမြို့
မှစေလွှတ်လျက်၊ပြည်ကိုသွား၍ စူးစမ်းကြလော့
ဟုမှာထိုက်ကြသည့်အတိုင်း၊သူတို့သည်ဧဖရိမ်
တောင်၊ မိက္ခာအိမ်သို့ရောက်ပြီးလျှင်၊ တည်းခို
၃ ၍နေကြ၏၊-မိက္ခာအိမ်၌ရှိစည်အခါ၊ လေဝိလု
လင် ၏ စကား သံ ကို မှတ်မိ ၍၊ သူ နေရာသို့ ဝင်
လျှင်၊ သင်သည် ဤအရပ် သို့ အဘယ် ကြောင့်
ရောက် သနည်း။ ဤသူ နှင့် အဘယ်သို့ ဆိုင်သ
နည်း။ အဘယ် သို့ လုပ်၍ နေ သနည်း ဟု မေး
၄ သော်၊-ထိုသူက၊မိက္ခာသည်ဤမည်သောအမှု
ဤမည်သော အရာကိုပေး၍ ငှါးသဖြင့်၊ငါ
သည်သူ၏ယဇ်ပုရောဟိတ်လုပ်နေသည်ဟုပြန်
၅ ပြော၏။-သူတို့ကလည်း၊အကျွန်ုပ်တို့သည်ယခု
ခရီး သွားရာတွင် အကြံမြောက်မည်၊ မမြောက်
မည်ကိုသိမည်အကြောင်းဘုရားသခင်ကိုမေး
၆ မြန်းပါလော့ဟုတောင်းပန်သည့်အတိုင်း။-ထိုယဇ်
ပုရောဟိတ်က၊ ငြိမ်ဝပ်စွာ သွားကြလော့။ သင်
တို့သွားရာလမ်းကို ထာဝရဘုရားကြည့်ရှုတော်
မူသည်ဟုပြန်ပြော၏။
၇ ထိုလူငါးယောက်တို့သည် ထွက်သွား၍၊လဲ
ရှမြို့သို့ရောက်သဖြင့်၊မြို့သားတို့သည်၊ ဇိဒုန်အ
မျိုးသားတို့ထထိမရှိသကဲ့သို့ သတိမရှိ၊စမုံစရိမ်
ဆဲငြိမ်ဝပ်စွာ နေကြောင်းကိုင်၊ ထုံးစံပိုင်သော
မင်းမရှိကြောင်းကိုင်၊ဇိဒုန်အမျိုးသားတို့နှင့်
ဝေး၍၊အဘယ်သူနှင့်မျှအမှု မဆိုင်ကြောင်းကို
၈ ၎င်းကြည့်ရှုပြီးမှ၊-အမျိုးသားချင်းရှိရာဇောရာ
မြို့၊ဧရှတောလမြို့သို့ပြန်လာ၍၊အမျိုးသားချင်း
တို့က၊သင်တို့သည်အဘယ်သို့ပြောကြမည်နည်း
၉ ဟုမေးသော်၊-သူတို့က၊ထ၍သွားတိုက်ကြကုန်
အံ့။ ထိုပြည်သည် ကောင်း မွန်သော ပြည် ဖြစ်
သည် ကို ငါတို့မြင်ပြီ၊ငြိမ်ဝပ်စွာ နေကြ သေးသ
လော၊ ထိုပြည်ကိုသိမ်းယူ ဝင်စားခြင်းငှါမဆိုင်း
၁၀ ငြဲကြနှင့်၊-သွားလျှင်၊ သတိမရှိသောလူရှိရာကျယ်
ဝန်းသော ပြည်ကို တွေ့ကြ လိမ့်မည်။
ဘုရား သခင်သည် သင်တို့ လက်၌ အပ်တော်မူ
မည်၊ထိုပြည်၌မြေကြီးပေါ်မှာနေ လိုချင်သည်တည်
ဟုပြောဆိုကြ၏။

၁၁ ထိုအခါဇောရာမြို့၊ ဧရှတောလမြို့မှဒန်အမျိုး
သားလူစုခြောက်ရာတို့သည် စစ်တိုက်ထက်နက်
၁၂ ပါလျက်ရှိသွားကြ၏။- သွားရာတွင်၊ ယုဒခရိုင်
ကိရယတ်ယာရိမ်မြို့မှာ စားခန်းချကြ၏။ ထိုအ
ရပ်ကို ယနေ့ တိုင်အောင်၊ ဒန်အမျိုး တပ် ဟူ၍
ခေါ်သတည်း။ ကိရယတ်ယာရိမ်မြို့နောက်မှာ
၁၃ ရှိ၏။- ထိုအရပ်မှသွား၍၊ ဧဖရိမ်တောင်၌မိက္ခာ
၁၄ အိမ်သို့ရောက်ကြ၏။- ထိုအခါလဲရှမြို့ကိုစူးစမ်း
ခြင်းငှါသွားသောလူငါးယောက်တို့က၊ ဤအိမ်
ထဲ၌သင်တိုင်းတော်၊ တေရပ်ရုပ်တု၊ ထုသောရုပ်
တု၊ သွန်းသောရုပ်တုရှိကြောင်းကိုသိသလော။
အဘယ်သို့ပြုရမည်ကိုဆင်ခြင်ကြလော့ဟု၊ အ
၁၅ မျိုးသားချင်းတို့အားဆိုသော်၊- သူတို့သည်ထို
အရပ်သို့လှည့်သွားသဖြင့်၊ လေဝိလုလင်နေရာ
မိက္ခာအိမ်သို့ရောက်၍၊ သူကိုနှုတ်ဆက်ကြ၏။-
၁၆ စစ်တိုက် ထက် နက် ပါသော ဒန် အမျိုး သား
၁၇ ခြောက်ရာတို့သည် တံခါးဝ၌နေကြ၏။- လဲရှမြို့
ကို စူးစမ်းသော လူ ငါး ယောက်တို့သည် မိက္ခာ
၁၈ အိမ်သို့ဝင်၍၊- ထုသောရုပ်တု၊ သင်တိုင်းတော်၊
တေရပ်ရုပ်တု၊ သွန်းသော ရုပ်တုတို့ကို ယဇ်ပ
ရောဟိတ်ရှေ့မှာ ယူကြ၏။ ယဇ်ပရောဟိတ်က
သည်။ အဘယ်သို့ပြုကြသနည်းဟုမေးသော်၊-
၁၉ သူတို့က၊ တိတ်ဆိတ်စွာနေပါ။ ကိုယ်တော်
နှုတ်ကိုလက်နှင့်ပိတ်၍၊ အကျွန်ုပ်တို့နှင့်ကြွပါ။
အကျွန်ုပ်တို့အဘလုပ်ပါ။ ယဇ်ပရောဟိတ်လုပ်
ပါ။ တအိမ်ထောင်၌သာယဇ်ပရောဟိတ်လုပ်
ဆောင်သောကြောင့်၊ ဣသရေလအမျိုးအနွယ်တို့
တွင်၊ တမျိုးတနွယ်လုံး၌ ယဇ်ပရောဟိတ်မ
၂၀ လုပ်ကောင်းသလောဟု ဆိုကြသော်၊- ယဇ်ပ
ရောဟိတ်သဘောဝမ်းမြောက်၍၊ သင်တိုင်းတော်၊
တေရပ်ရုပ်တု၊ ထုသော ရုပ်တုကိုယူလျက်၊ ထို
၂၁ လူစုထဲသို့ ဝင်သွားလေ၏။- ထိုသူတို့သည် သူ
ငယ်များ၊ တိရစ္ဆာန်များ၊ ဝန်စလယ်များကိုအ
ဦးသွား စေသဖြင့်၊ ကိုယ်တိုင်လိုက်လျက်လှည့်
၂၂ သွားကြ၏။- မိက္ခာ အိမ်နှင့် ဝေးသော အခါ၊
မိက္ခာ၏အိမ်နီးချင်းတို့သည်စည်းဝေး၍၊ ဒန်အ
၂၃ မျိုးသား တို့ ကို မှီအောင် လိုက်ကြ၏။- ကြွေး
ကြော်သောအခါ၊ ဒန်အမျိုးသားတို့သည်လှည့်
ကြည့်လျက်၊ သင်သည်အဘယ်အခင်းရှိ၍၊ လူ
အပေါင်းတို့နှင့်လိုက်လာသနည်းဟု၊ မိက္ခာအား
၂၄ မေးသော်၊- မိက္ခာက၊ သင်တို့သည် ငါလုပ်သော
ဘုရားတို့နှင့် ယဇ်ပရောဟိတ်ကို ယူသွားကြ
သည်တကား။ ထိုအရာမှ တပါး၊ ငါ၌ အဘယ်
အရာရှိသေးသနည်း။ သို့သော်လည်း၊ သင်တို့
က၊ အဘယ်အခင်းရှိသနည်းဟု ငါ့ကိုမေးကြ
၂၅ သည်တကား ဟု ဆိုလေသော်၊- ဒန်အမျိုးသား
တို့က၊ ငါတို့တွင်သင့်စကားကိုမကြားပါစေနှင့်။
သို့မဟုတ်၊ စိတ်ဆိုး သော သူတို့သည် သင့်ကို
တိုက်၍၊ သင့်အသက် နှင့် သင့်အိမ်သားတို့ အ
သက်ဆုံးကောင်း ဆုံးလိမ့်မည်ဟု ဆိုလျက်ခရီး
၂၆ သွားကြ၏။- မိက္ခာသည်သူတို့ကို မိမိမနိုင်သည်
ကိုသိ၍၊ မိမိအိမ်သို့ပြန်သွားလေ၏။
၂၇ ဒန်အမျိုးသားတို့သည်၊ မိက္ခာလုပ်သော အ
ရာတို့နှင့်၊ သူ၌နေသော ယဇ်ပရောဟိတ်ကို ယူ
သွား၍၊ သတိမရှိ၊ ငြိမ်ဝပ်စွာနေသော လဲရှမြို့
သားတို့ဆီသို့ ရောက်သဖြင့်၊ ဓားနှင့် လုပ်ကြ
၂၈ ၍ မြို့ကို မီး ရှို့ ကြ၏။- ဇိဒုန်မြို့နှင့် ဝေးသော
ကြောင့်၎င်း၊ အဘယ်သူနှင့်မျှ အမှုမဆိုင်သော
ကြောင့်၎င်း၊ ကယ်နှုတ်သောသူမရှိ။ ထိုမြို့သည်
ဗက်ရဟောဘမြို့အနားမှာရှိသောချိုင့်၌ တည်
၂၉ ၏။ ထိုအရပ်၌မြို့သစ်ကိုတည်၍နေကြ၏။- ထိုမြို့
ကိုသူတို့အမျိုး၏အဘ၊ ဣသရေလ၏သားဒန်အ
မည်ကိုမှီသဖြင့်၊ ဒန်မြို့ဟူ၍ခေါ်ကြ၏။ ထိုမြို့အ
၃၀ မည်ဟောင်းကား၊ လဲရှတည်း။- ဒန်အမျိုးသား
တို့သည်၊ မိက္ခာထုသောရုပ်တုကို တည်ထောင်
၍၊ မနာရှေသားဂေရရှုံ၏ သားယောနသန်နှင့်
သူ၏သားတို့သည်၊ ထစ်တာတော်ကိုသိမ်းသွား
သည် နေ့ တိုင် အောင်၊ ဒန် အမျိုး၌ ယဇ်ပရော
၃၁ ဟိတ်လုပ် ကြ၏။- ဘုရား သခင် ၏ အိမ် တော်
သည်၊ ရှိလောမြို့၌ရှိသည်ကာလပတ်လုံး၊ မိက္ခာ
သွန်းသောရုပ်တုကိုထည်းတည်ထောင်ကြ၏။

၁၉

၁ ဣသရေလရှင်ဘုရင်မရှိသည်ကာလ၊ ဧဖရိမ်
တောင် ခါးပန်း၌ တည်း ခိုသော လေဝိ လူတ
ယောက်သည်၊ ယုဒခရိုင် ဗက်လင်မြို့သူ မိန်းမတ
၂ ယောက်ကိုသိမ်းယူ၏။- ထိုမိန်းမသည်ထင်ကိုပြစ်
မှား၍ဗက်လင်မြို့၊ မိမိအဘအိမ်သို့သွားသဖြင့်၊
၃ လေးလနေလေ၏။- လင်သည်သူကိုချော့မော့၍
ဆောင်ခဲ့ခြင်းငှါ၊ ငယ်သားတယောက်နှင့်မြည်းနှ
စ်စီးပါလျက်ထသွား၍ရောက်သောအခါ၊ မယား
ငယ်သည် မိမိအဘ အိမ်ထဲသို့ခေါ်သွင်း၍၊ အဘ
သည် သမက် ကို တွေ့ မြင် လျှင်၊ ဝမ်း မြောက်
၄ သောစိတ်ရှိ၍ သိမ်းဆည်းလေ၏။- ထိုကြောင့်
သမက်သည် စားသောက် လျက်၊ အိပ် လျက်၊

၅ သုံးရက်ပတ်လုံးသောက်စားလျက်နေကြ၏။ စတုတ္ထ
နေ့ရက်နံနက်စောစောထ၍၊ ထွက်သွားခြင်းငှါ ပြင်ဆင်သောအခါ၊ ယောက္ခမ မကာ၊ မုန့်အနည်း
ငယ်ကိုစား၍ အားဖြည့်ပြီးမှ၊ သွားကြပါလော့ဟု သမက်အား ဆိုသည်အတိုင်း၊- နှစ်ယောက်တို့
၆ ထိုင်၍စားသောက်လျက်နေကြ၏။ ယောက္ခမကလည်း၊ ထသော ကျွပါတော့။ ယနေ့ ညဉ့်ကို
လည်း လွန်စေသဖြင့် ပျော်မွေ့လျက် နေပါတော့
၇ ဟု၊ သမက်အားဆိုပြန်၍၊- သမက်သည် သွားအံ့သောငှါ ထသော်လည်း၊ ယောက္ခမ သွေး
ဆောင်သဖြင့်၊ သမက်သည်ထိုအရပ်၌ အိပ်ပြန်
၈ သေး၏။- ပဉ္စမနေ့ရက် နံနက် စောစော သွားအံ့သောငှါထသောအခါ၊ ယောက္ခမက၊ အားဖြည့်
ပါဦးတော့ဟုဆို၍၊ မွန်းလွဲသည်တိုင်အောင်နှစ်
၉ ယောက်တို့စားသောက်လျက်နေကြ၏။- ထိုသူသည်မယားငယ်နှင့်ငယ်သားကိုခေါ်၍၊ သွား
အံ့သောငှါ ပြင်သော အခါ၊ သူ၏ယောက္ခမဖြစ်သော၊ ထိုမိန်းမ၏အဘက၊ ကြည့်ပါ။ မိုဃ်းချုပ်
လုပြီ။ ယနေ့ ညဉ့်ကိုလည်း လွန်စေပါတော့။ နေ့အမှိန် ကုန်လုပြီ။ ဤအရပ်၌အိပ်၍ ပျော်မွေ့
လျက်နေပါတော့။ နက်ဖန် နံနက် စောစောထ၍၊ ကိုယ်နေရာ အရပ်သို့ သွားတော့ဟု ဆိုသော်
၁၀ လည်း၊- သမက်သည် ထိုညဉ့်ကိုမလွန်စေဘဲထ သွား၍၊ ကုန်းနှီးတင်သော မြည်းနှစ်စီးနှင့် မယား
ငယ်လည်း ပါလျက်၊ ယေရုရှလင် မြို့တည်းဟူ
၁၁ သော၊ယေဗုတ်မြို့အနီးသို့ရောက်သ၏။- ထိုမြို့အနီးသို့ ရောက်သော အခါ၊ မိုဃ်း ချုပ်သော
ကြောင့်ငယ်သားက၊ နားထောင်ပါတော့။ ယေဗုသိလူ နေရာဤမြို့သို့ဝင်၍ အိပ်ကြ ကုန်အံ့ဟု၊
၁၂ သခင်အားဆိုသော်၊- သခင်က၊ ဣသရေလအမျိုးမဟုတ်၊ တပါးအမျိုးသား နေသော မြို့သို့မ
၁၃ ဝင်၊ ဂိဗာမြို့သို့သွားဦးမည်။- ဂိဗာမြို့၊ ရာမမြို့အရှိသော၊ တစုံ တခုသော အရပ်၌ ညဉ့်ကိုလွန်
စေခြင်းငှါ သွားကြ ကုန်အံ့ဟု၊ ငယ်သား အား
၁၄ ဆိုလျှက်၊- ခရီးသွားပြန်၍၊ ဗင်္ယာမိန်ခရိုင်ဂိဗာ
၁၅ မြို့အနီးသို့ ရောက်သောအခါ နေဝင်သော်၏။- ဒီ ဗာမြို့မှာညဉ့်ကိုလွန်စေမည်အကြံနှင့်မြို့ထဲသို့
ဝင်၍၊ အဘယ်သူမျှဧည့်မခံသေးသောကြောင့် လမ်းမှာထိုင်နေ၏။

၁၆ ဂိဗာမြို့သားတို့သည် ဗင်္ယာမိန် အမျိုး သား
ဖြစ်ကြ၏။ သို့ရာတွင်၊ တည်းခိုသော ဧဖရိမ်
တောင်သား၊ လူအိုတယောက်ရှိသည်ဖြစ်၍၊ ထို
သူသည် ညဦးယံ၌ ထယ် လုပ်ရာမှ လာ၍၊-
၁၇ မျှော်ကြည့်၍၊ မြို့လမ်းမှာဧည့်သည်တယောက်
ရှိသည်ကိုမြင်လျှင်၊ သင်သည်အဘယ်အရပ်သို့
သွားသနည်း။ အဘယ်အရပ်ကလာသနည်းဟု
၁၈ မေးသော်၊- ကျွန်ုပ်တို့သည်ယုဒခရိုင်ဗက်လင်မြို့
မှဧဖရိမ်တောင်စွန်းသို့သွား၏။ ကျွန်ုပ်သည်
ဧဖရိမ် တောင်သားဖြစ်၏။ ဗက်လင်မြို့သို့ ခရီး
သွားပြီးမှ၊ ထာဝရဘုရား၏ အိမ်တော်သို့
၁၉ သွား၏။ အဘယ်သူမျှဧည့်မခံသေး။- သို့ရာတွင်၊
မြည်းတို့ မြက် ကောက်ရိုး နှင့် အခြား ကျွေး စရာ ရှိ၏။
ကိုယ်နှင့် ကိုယ်တော် ကျွန်မ၊ ကိုယ်တော် သော
ငယ်သားအိုရန်နှင့်စပျစ်ရည်ရှိ၏။ တစုံတခုမျှမ
၂၀ လိုပါဟုပြောဆို၏။- လူအိုကလည်း၊ သင်၌ငြိမ်း
သာရှိပါစေသော၊ သင်လိုသမျှသည်ငါ့၌ရှိစေ
တော့။ လမ်းမှာ ညဉ့်ကို မလွန် စေနှင့်ဟု ဆို
၂၁ လျှက်၊- မိမိအိမ်သို့ခေါ်သွင်း၍၊ မြည်းတို့ကို ကျွေး
လေ၏။ သူတို့သည် ခြေကို ဆေး၍ စားသောက်
ကြ၏။

၂၂ ထိုသို့ပျော်မွေ့လျက်နေကြသောအခါ၊ ထိုမြို့
သား၊ အဓမ္မလူအချို့တို့သည်အိမ်ကိုဝိုင်း၍ တံ
ခါးကိုရိုက်ကြ၏။ အိမ်ရှင်လူအိုကိုလည်းခေါ်၍၊
သင့်အိမ်သို့ဝင်သောယောကျ်ားနှင့် ငါတို့သည်
ဆက်ဆံလိုသည် ဖြစ်၍၊ ထုတ်ခဲ့တော့ဟု ဆိုကြ
၂၃ ၏။- အိမ်ရှင်သည်ထည်းထွက်၍၊ ညီအစ်ကိုတို့၊
ဆိုးသောအမှုကိုမပြုပါနှင့်။ ဤသူသည်အကျွန်ုပ်
အိမ်၌ တည်းခိုသောသူဖြစ်၍၊ အဓမ္မ မပြုကြ
၂၄ ပါနှင့်၊- အကျွန်ုပ်၌ အပျိုကညာ ရှိပါ၏။ သူ၏ မ
ယားငယ်လည်း ရှိပါ၏။ သူတို့ကိုထုတ်၍ပေးပါ
မည်။ သူတို့ကိုရှုတ်ချကြပါ။ အလိုရှိသည့်အတိုင်း
ပြုကြပါ။ ဤယောကျ်ား၌၊ ဤမျှလောက်ဆိုးသော
အမှုကိုမပြုပါနှင့်ဟု တောင်းပန် သော်လည်း၊-
၂၅ သူတို့သည် နားမထောင် သောကြောင့်၊ ထေဝီ
လူ သည် မိမိမယားငယ် ကိုထုတ်၍ အပ်သဖြင့်၊
သူတို့သည်တညဉ့်လုံးအဓမ္မပြု၍၊ နံနက် တိုင်
အောင်ရှုတ်ချပြီးမှ၊ အာရုဏ်တတ်မှလွှတ်လိုက်
၂၆ ကြ၏။- အာရုဏ် တတ် သော အခါ၊ မိန်းမသည်
လာ၍၊ မိမိသခင်နေရာအိမ်တံခါးရှေ့မှာလဲ၍၊
၂၇ လင်းသည် တိုင်အောင် လဲနေ၏။- နံနက်အမှိန်
ရောက်မှ၊ သူ၏သခင်သည်ထ၍၊ အိမ်တံခါးကို
ဖွင့်သဖြင့်၊ ခရီး သွားအံ့သောငှါ ထွက် သောအ
ခါ၊ မယား ငယ်သည် အိမ် တံခါးရှေ့မှာလဲ၍၊
တံခါးခုံကိုလက်တင်လျှက်ရှိသည်ကိုမြင်သော်၊

၂၈ ထသွားကြကုန်အံ့ဟု ဆိုသော်လည်း၊ သူ
သည် ပြန်မပြောသဲ နေ၏၊ ထိုအခါ ယောကျ်ား
သည်သူကို မြင်းပေါ်မှာ တင်သဖြင့်၊ မိမိနေရာ သို့
၂၉ သွား လေ၏။- မိမိ အိမ် သို့ ရောက် သော အခါ
ဓားကို ယူ၍၊ မယားငယ်အလောင်းကိုအရိုးနှင့်
အကွ ထယ် နှစ်ပိုင်း ပိုင်း၍၊ ဣသရေလပြည်တ
၃၀ ရှောက်လုံးသို့ပေးလိုက်လေ၏။ သိမြင်သောသူ
အပေါင်းတို့က၊ ဣသရေလအမျိုးသားတို့သည်
အဲဂုတ္တုပြည်က ထွက်သောနေ့မှစ၍ ယနေ့တိုင်
အောင်၊ ဤကဲ့သို့သောအမှုကိုအထယ်သူမျှမပြု၊
ထဲခါမျှ မဖြစ်စဖူး။ ဆင်ခြင်၍ တိုင်ပင်မိရင် ကြ
လော့ဟုပြောဆိုကြ၏။

၂၀

၁ ထိုအခါ ဣသရေလ အမျိုး သား အပေါင်း တို့
သည်၊ ဒိသစ်ပြည်သားတို့နှင့် တကွ ထလျက်၊
ဒန်မြို့မှစ၍ဗေရရှေဘမြို့တိုင်အောင်၊ပရိသတ်
အပေါင်းတို့သည် တယောက်သောသူကဲ့သို့၊မိ
ဇပါမြို့၊ ထာဝရဘုရား ထံတော်၌ စည်းဝေးကြ
၂ ၏။-ဣသရေလ အမျိုး အနွယ် အပေါင်း၊ ပြည်
သားအပေါင်းတို့၏ အကြီး အကဲ တို့သည် စည်း
ဝေးကြသော်၊ဘုရားသခင်၏လူ၊ထားထက်နတ်
ခွဲကိုင်သောခြေသည် လူရဲ လေး သိန်းနှင့် တကွ
၃ ရှည်းဆင်ကြ၏။-ဣသရေလအမျိုးသားတို့သည်
မိဇပါ မြို့သို့ သွား ကြောင်း ကို၊ ဗင်္ယာမိန် အမျိုး
သားတို့သည်ကြားသိကြ၏။ ဣသရေလအမျိုး
သားတို့က၊ထိုအဓမ္မအမှုကား၊အဘယ်သို့နည်း
၄ ထုဒေမဖြန်းလျှင်၊- အသေ ခံရ သော မိန်းမ၏ လင်၊
လေဝိလူက၊ အကျွန်ုပ်သည် မယားငယ်နှင့်အတူ
ထာ၍၊ ဗင်္ယာမိန် ခမိုင် ဂိဗာမြို့မှာ ညဉ့်ကိုလွန်
၅ စေပါ၏။- ညဉ့်အခါ ဂိဗာမြို့သားတို့သည် ထ
၍၊အကျွန်ုပ်တည်းခိုသောအိမ်ကိုဝိုင်းလျက်၊အ
ကျွန်ုပ်ကိုသတ်မည်အားထုတ်ကြပါ၏။မ
ယားငယ်သေသည်တိုင်အောင်ရှုတ်ချကြပါ၏။-
အကျွန်ုပ်သည်လည်း၊မယားငယ်အလောင်းကို
ယူ၍ အပိုင်းပိုင်းဖြတ်ပြီးမှ၊ ဣသရေလ အမျိုး
အမွေခံရာပြည် တရှောက် လုံး သို့ ပေးလိုက်ပါ
၏။အကြောင်းမူကား၊သူတို့သည်ဣသရေလအ
မျိုး၌ဆိုးညစ်သောအမှု၊ အဓမ္မအမှုကိုပြုကြပါ
၇ ပြီ၊- သင်တို့ရှိသမျှသည် ဣသရေလ အမျိုးဖြစ်
ကြပါ၏၊ ဤအရပ်၌တိုင်ပင်မိရင်ကြပါလော့ဟု
ပြောဆိုလေ၏၊-လူအပေါင်းတို့သည်တယောက်
သော သူကဲ့သို့ ထ၍၊ ငါတို့သည် တယောက် မျှ
၈ မိမိတဲသို့မသွား၊မိမိအိမ်သို့မပြန်။- ဂိဗာမြို့အ
ထယ်သို့ ပြုမည်နည်း ဟူမူကား၊ စာရေးတံချ၍
၁၀ အလိုက်သွားမည်၊- ဗင်္ယာမိန်ခမိုင်ဂိဗာမြို့သား
တို့သည်၊ ဣသရေလ အမျိုးတို့၌ ပြုသမျှသော
အဓမ္မအမှုနှင့်ညီလျော်စွာ၊လူများတို့သည်ထိုမြို့
သို့ရောက်၍ အပြစ်ဒဏ် ပေးမည် အကြောင်း၊
သူတို့ စားစရိတ်ကို ပို့စေခြင်းငှါ၊ ဣသရေလအ
မျိုးအနွယ်အပေါင်းတို့၌လူတရာတွင်တဆယ်၊
တထောင်တွင်တရာ၊ တသောင်းတွင်တထောင်
၁၁ ထိုကိုရွေးကောက် ကြ ကုန်အံ့ ဟု ဆိုလျက်၊- ဣ
သရေလအမျိုးသား အပေါင်းတို့သည် ဂိဗာမြို့
တဖက်၌စည်းဝေး၍၊ တယောက်သောသူကဲ့သို့
ထင်း ရွဲလျက်နေကြ၏။
၁၂ ဣသရေလ အမျိုး သားတို့သည်၊ ဗင်္ယာမိန်ခ
မိုင်တရှောက်လုံးသို့စေလွှတ်၍၊ သင်တို့တွင်ပြု
၁၃ သော ဤအဓမ္မအမှုကား၊ အဘယ်သို့နည်း။-ထ
ရှမှာဂိဗာမြို့၌ရှိသောထိုအဓမ္မလူတို့ကို ငါတို့ထု
၍သတ်သဖြင့်၊ ဣသရေလအမျိုးထဲက ရစမြိတ်
အပြစ်ကိုပယ်ရှားမည်အကြောင်း၊ ထိုလူတို့ကို
အပ်ကြပါ ဟု မှာလိုက်ကြ၏။ သို့ရာတွင်၊ ဗင်္ယာ
မိန်အမျိုးသားတို့သည်၊ညီအစ်ကိုဣသရေလအ
၁၄ မျိုးသားတို့စကားကိုနားမထောင်ဘဲ၊-ထိုအမျိုး
သားတို့ကို စစ်တိုက်ခြင်းငှါ၊ အမြို့မြို့အရွာရွာက
၁၅ ထွက်၍ဂိဗာမြို့၌စည်းဝေးကြ၏၊-ထိုအခါဂိဗာ
မြို့သားယောကျ်ား ခုနစ်ရာ မှတပါး၊ အ
မြို့မြို့ အရွာရွာ က ထာ သော ဗင်္ယာမိန် အမျိုး
သားအရေအတွက်ကား၊ ထားထက်နတ်ခွဲကိုင်
၁၆ သောသူနှစ်သောင်းခြောက်ထောင်တည်း။- ထို
လူအပေါင်းတို့တွင်လက်ဝဲထက်ကိုသုံးတတ်သ
ဖြင့်၊ဆံခြည်တပင်ကိုလောက်ခွဲနှင့်မှန်အောင်
ပြစ်နိုင်သော ယောကျ်ား ကောင်းခုနစ် ရာပါသ
၁၇ တည်း။- ဗင်္ယာမိန် အမျိုး သားမှ တပါး၊ ထား
ထက်နတ်ခွဲကိုင်၍စစ်သူရဲဖြစ်သောဣသရေလ
အမျိုး သား အ ရေ အ တွက် ကား၊ လေး သိန်း
တည်း။
၁၈ ဣသရေလအမျိုးသားတို့သည် ဘုရားသခင်
၏အိမ်တော်သို့ထ၍ သွားပြီးလျှင်၊ အကျွန်ုပ်တို့
တွင်၊အဘယ်သူသည်ဗင်္ယာမိန်အမျိုးကိုအဦး
ရှိသွားရပါမည်နည်းဟု၊ ဘုရားသခင်ထံတော်
၌မေးလျှောက်ကြသော်၊ ထာဝရဘုရားက၊ ယုဒ
၁၉ သည်အဦးရှိသွားရမည်ဟု မိန့်တော်မူ၏။-နံနက်
စောစော ဣသရေလအမျိုးသားတို့သည် ထ၍၊

၂၀ ဂိဗာမြို့အနား၌ တပ်ချပြီးမှ၊- ဗင်္ယာမိန် အမျိုး
သားတို့ ကို တိုက်ခြင်းငှါ ရှီသွား၍၊ ဂိဗာ မြို့ရှေ့
၂၁ မှာ စစ်ခင်းကျင်းလျက် နေကြ၏။- ဗင်္ယာမိန် အ
မျိုးသားတို့သည် ဂိဗာမြို့ထဲက ထွက်ပြီးလျှင်၊
ထိုနေ့ တွင် ဣသရေလလူ တသောင်းနှစ်ထောင်
၂၂ တို့ကိုမြေပေါ်၌လှဉ်း၍သတ်ကြ၏။-သို့ရာတွင်၊
ဣသရေလ အမျိုးသားတို့သည် ရဲရင့်သောစိတ်
ကိုယူ၍၊ ပဌမနေ့တွင်စစ်ခင်းကျင်းသောအရပ်
၂၃ ၌တဖန်ခင်းကျင်းကြ၏။-ထာဝရဘုရားထံတော်
သို့သွား၍၊ ညဦးယံတိုင်အောင် ငိုကြွေးလျက်၊
အကျွန်ုပ်တို့ညီ ဗင်္ယာမိန် အမျိုးသား တို့ကိုတ
ဖန်စစ်တိုက် ရပါမည်လောဟု၊ ထာဝရ ဘုရား
အား မေး လျှောက်သော်၊ ထာဝရဘုရားက၊ ရှီ
၂၄ သွားကြလော့ဟုမိန့်တော်မူ၏။-ဒုတိယနေ့တွင်၊
ဣသရေလအမျိုးသားတို့သည်ဗင်္ယာမိန်အမျိုး
၂၅ တို့အနီးသို့ ချဉ်းကြသော အခါ၊- ဗင်္ယာမိန်အ
မျိုးသားတို့သည် ဂိဗာမြို့ထဲက ထွက်ပြီးလျှင်၊
ထား လက်နက် စွဲ ကိုင် သော ဣသရေလ လူတ
သောင်းရှစ်ထောင်တို့ကိုမြေပေါ်၌လှဉ်း၍သတ်
ကြ၏။

၂၆ ထိုအခါ ဣသရေလအမျိုးသား အပေါင်းတို့
သည်ဘုရားသခင်အိမ်တော်သို့သွား၍၊ငိုကြွေး
လျက်၊ ထာဝရဘုရားထံတော်၌ ဝပ်လျက်၊ တ
နေ့လုံးညဦးယံ တိုင်အောင် အစာကို ရှောင်၍၊
ထာဝရ ဘုရား အား မီး ရှို့ ရာ ယဇ်၊ မိဿဟာ
၂၇ ယယဇ်တို့ကို ပူဇော်ကြ၏။- ထိုကာလ၌ဘုရား
သခင်၏ ပဋိညာဉ် သေတ္တာ တော် ပါ လျက်၊ အာ
ရုန်၏သားဖြစ်သော ဧလာဇာ ၏ သား ဖိနေဟတ်
သည်၊ သေတ္တာ တော် ရှေ့မှာ အမှု စောင့် သည်
၂၈ ဖြစ်၍၊-ဣသရေလ အမျိုးသားတို့က၊ အကျွန်ုပ်
တို့ညီ ဗင်္ယာ မိန် အမျိုး သား တို့ကို တဖန်သွား
၍ တိုက်ရပါမည်လော၊ မသွားဘဲ နေရပါမည်
လောဟု၊ ထာ ဝ ရ ဘုရား အား မေး လျှောက်
သော်၊ထာဝရဘုရားက၊သွားကြလော့၊နက်ဖန်
နေ့တွင် သူတို့ကို သင်တို့လက်၌ ငါအပ်မည်ဟု
၂၉ မိန့်တော်မူ၏။- ဣသရေလ အမျိုးသားတို့သည်
ဂိဗာမြို့ပတ်ထည်၌ ကင်းစောင့်လူတို့ကို ထားပြီး
၃၀ မှ၊-တတိယနေ့တွင် ဗင်္ယာမိန် အမျိုးသား တို့ ရှိ
ရာသို့ရှီသွား၍၊ ယမန်ကဲ့သို့ဂိဗာမြို့အနား၌စစ်
၃၁ ခင်းကျင်းလျက်နေကြ၏။-ဗင်္ယာမိန်အမျိုးသား
တို့သည် အတိုက်ထွက်၍၊ မြို့နှင့်ကွာသွားကြ
၏။ ဗေသလမြို့သို့ သွားသောလမ်း၊ ဂိဗာတော

ရွာသို့သွားသော လမ်းတွင် ယမန်ကဲ့သို့၊ ဣသ
ရေလ အမျိုး သူရဲ တို့ကို လုပ် ကြံစ ပြု၍၊ လူသုံး
၃၂ ဆယ်ခန့် မျှ သေကြ၏။- ဗင်္ယာမိန်အမျိုးသားတို့
က၊ သူတို့သည်ယမန်ကဲ့သို့၊ ငါတို့ရှေ့မှာ ရှုံးကြ
ပြီဟုဆိုသော်လည်း၊ဣသရေလအမျိုးသားတို့
က၊ ပြေးကြ ကုန် အံ့။ သူတို့ကို မြို့နှင့် ဝေးသော
လမ်းတို့သို့သွေးဆောင်ကြကုန်အံ့ဟုဆိုလျက်၊-
၃၃ ဣသရေလ လူအပေါင်းတို့သည် မိမိတို့ နေရာအ
ရပ်မှထ၍၊ဗာလတာမာမြို့၌စစ်ခင်းကျင်းကြ၏။
ကင်းစောင့်လျက်နေသောဣသရေလလူတို့သည်
လည်း၊ မိမိတို့ နေ ရာ ဂိဗာလွင်ပြင် မှ ထကြသ
၃၄ ဖြင့်၊- ဣသရေလအမျိုးသားရွေးကောက်အကောင်း
တသောင်းတို့သည် ဂိဗာမြို့သို့ ရှီလာ၍၊ ဗင်္ယာ
မိန်အမျိုးသားတို့သည်၊ဘေးရောက်လုနီးသည်
ကိုမရိပ်မိသောကြောင့်၊ ကြပ်တည်းစွာ ဆိုး၍
၃၅ တိုက်ကြ၏။-ထိုအခါထာဝရဘုရားသည်၊ ဗင်္ယာ
မိန်လူတို့ကိုဣသရေလလူ တို့ရှေ့မှာရှုံးစေတော်
မူသဖြင့်၊ထိုနေ့တွင်ဣသရေလလူတို့သည်၊ထား
လက်နက် စွဲကိုင် သော ဗင်္ယာမိန် လူ နှစ်သောင်း
ငါးထောင်တရာတို့ကိုပယ်ရှင်းကြ၏။

၃၆ ဗင်္ယာမိန်အမျိုးသားတို့သည် မိမိတို့ရှုံးသည်
ကိုသိမြင်ကြ၏။ ဣသရေလလူတို့သည်၊ဂိဗာမြို့
အနား၌ ထားသော ကင်းတပ်ကို ကိုးစား သော
ကြောင့်၊ အစကဗင်္ယာမိန်လူတို့ရှေ့မှာဆုတ်ကြ
၃၇ ၏။- ကင်းတပ် သားတို့သည် ဂိဗာမြို့သို့ တဟုန်
တည်းပြေးဝင်၍၊ အနှံ့အပြား တိုက်သဖြင့်၊ တ
၃၈ မြို့လုံးကိုထားနှင့် လုပ်ကြံကြ၏။- မြို့ထဲမှာကြီး
စွာသောမီးခိုးတက်စေရမည်အကြောင်း၊ဣသ
ရေလလူ တို့ သည် ကင်းစောင့် လူတို့အား အကြံ
၃၉ ပေးနှင့်ကြပြီဖြစ်၍၊-ဣသရေလလူတို့သည်စစ်
တိုက်ရာတွင် ဆုတ် သော အခါ၊ ဗင်္ယာမိန် လူတို့
က၊အကယ်၍သူတို့သည်ယမန်စစ်ရှုံးသကဲ့သို့၊
ငါတို့ရှေ့မှာ ရှုံးကြပြီဟု ဆို လျက်၊ သူရဲ တို့ကို
၄၀ လုပ်ကြံစပြု၍၊လူသုံးဆယ်ခန့်မျှသေကြ၏။-တ
ဖန်မီး လောင်၍၊ ထူထပ်သော မီးခိုးသည် မြို့ထဲ
မှာ တက်စ ရှိ သော အခါ၊ဗင်္ယာမိန် လူ တို့ သည်
ပြန် ကြည့် ၍၊ မြို့ကို လောင် သော မီး လျှံ သည်
မိုဃ်းကောင်းကင်သို့တက်သည်ကိုမြင်ကြ၍၊-
၄၁ ဣသရေလ လူ တို့သည်လှည့်၍ ပြန်သောအခါ၊
ဗင်္ယာမိန်လူတို့သည် ဘေးရောက်ကြောင်းကိုသိ
မြင်လျှင်၊မိန်းမောတွေဝေ၍၊ ဣသရေလလူတို့
ရှေ့မှာတောလမ်းသို့ပြေးသော်လည်း၊စစ်တိုက်

ထိုက်ထာသောသူဖို့သည် မှိသမြင့်၊ ပြေးသော
သူတို့ကိုငင်၊ မြို့ရွာများထဲက ထွက်သာသောသူ
၄၄ တို့ကိုငင်တပြိုင်နက်ဖျက်ဆီးကြ၏၊ ဗင်္ယာမိန်လူ
တို့ကိုဝိုင်းလျှက်၊ လိုက်လျှက်၊ နေခါရွာမှစ၍၊ နေ
ထွက်ရာဘက်၊ ဂိဗာမြို့အနားတိုင်အောင်နှိပ်
၄၅ နင်းကြ၏၊- ထိုအခါ ဗင်္ယာမိန် သူရဲ တသောင်း
၄၆ ရှစ်ထောင်တို့သည်လဲ၍သေကြ၏၊-ကြွင်းသော
သူတို့သည်ဖှည့်၍ တောအရပ်၊ရိမ္မုန်ကျောက်
သို့ပြေးကြစည်တွင်၊ လိုက်သောသူတို့သည် လူ
ငါးထောင်တို့ကိုလမ်းမှာဖမ်းမိကြ၏၊ဂိဒုံမြို့တိုင်
အောင် အမြင်းလိုက်၍၊ လူ နှစ်ထောင် တို့ကို
၄၇ ထည်းသတ်ကြ၏၊- ထိုနေ့တွင် လဲ၍ သေသော၊
ဗင်္ယာမိန် ထား ခွဲသူ ရဲ တို့ အရေ အတွက် ကား၊
၄၈ နှစ်သောင်း၅ါးထောင်တည်း၊-လူခြောက်ရာတို့
သည်ဖှည့်၍၊ တောအရပ်၊ ရိမ္မုန် ကျောက်ကိုမှီ
အောင်ပြေးသဖြင့်၊ထိုကျောက်အောတ်မှာလေး
၄၈ လနေကြ၏၊- ဣသရေလလူတို့သည်တဖန်ဖှည့်
၍၊ ဗင်္ယာမိန် အမျိုးသား တို့ကို လိုက်လျှက်၊ မြို့
ရွာ၌ရှိသောလူ၊ တိရိစ္ဆာန်တွေ့သမျှ တို့ကိုထား
နှင့်ထုပ်ကြ၍၊ တွေ့သမျှသော မြို့ရွာ တို့ ကို မီး
ရှို့ကြ၏။

၂၁

၁ ဣသရေလ အမျိုးသား တို့သည်၊ အသယ်သူ
ရှိမိသို့း ကို ဗင်္ယာမိန် အမျိုးသား၌ ပေးစားရ
စည်အကြောင်း၊မိဇပါမြို့မှာ ကျိန်ဆိုခြင်းကိုပြု
၂ နှင့်ကြပြီ၊- လူများ တို့ သည် ဘုရား သခင် အိမ်
တော်သို့ လာ၍၊ ဘုရား သခင် ရှေ့ တော်၌ ညဦး
တိုင် အောင် နေ လျှက်၊ အသံ ကို ဖွင့်၍ ငိုကြွေး
၃ လျှက်၊- ထိုဣသရေလအမျိုး၏ဘုရားခင်ထာဝ
ရ ဘုရား၊ ဣသ ရေ လ အမျိုး အနွယ် တို့ တွင်၊
ထနေ့ တမျိုးမျှို့ ထဲ့ရသော အမှုသည် အဘယ်
ကြောင့်ဖြစ်ရပါသနည်းဟု လျှောက်ဆိုကြ၏၊-
၄ နက်ဖန် နံနက် စောစော လူများ တို့သည် ထပြီး
လျှင်၊ ထံပယ္ဘွင်ကိုတည်၍ မီးရှို့ရာယဇ်၊ မိဿ
၅ ဟာယဇ်တို့ကို ပူဇော်ကြ၏၊- ဣသရေလအ
မျိုးသားတို့ကလည်း၊ ဣသရေလအမျိုးအနွယ်
အပေါင်းတို့တွင်၊အဘယ်သူသည်ပရိသတ်အ
ပေါင်းနှင့် အတူ၊ ထာဝရ ဘုရား ထံတော်သို့ မ
လာဘဲ နေသ နည်း ဟု မေး ကြ၏၊ အကြောင်းမူ
ကား၊မိဇပါမြို့၊ထာဝရဘုရားထံတော်သို့မလာ
ဘဲနေ သော သူသည်၊ ဧကန် အမှန်အသေသတ်
ခြင်းကို ခံစေဟု၊ ကြီးစွာသော ကျိန်ဆို ခြင်းကို
၆ ပြုနှင့်ကြပြီ၊- ဣသရေလ အမျိုး သား တို့သည်
ထည်း၊ ညီဗင်္ယာမိန် အတွက် နောင်တရလျှက်၊
ဣသရေလ အမျိုး အ နွယ် တို့တွင် ယနေ့ တမျိုး
၇ ဆုံးပြီ၊- ငါတို့သည် ကိုယ် သမီးကို သူတို့ အားမ
ပေးစားရမည် အကြောင်း၊ ထာဝရဘုရား ကို
တိုင်တည်၍ ကျိန်ဆိုသော ကြောင့်၊ ကျန် ကြွင်း
သော သူတို့ အဖို့ မိန်းမ တို့ကို အ ဘယ်သို့ ရနိုင် အံ
၈ နည်းဟု၍ ငင်၊- ဣ သရေလ အမျိုး တ နွယ် တို့
တွင်၊ အဘယ်သူသည်မိဇပါမြို့၊ ထာဝရဘုရား
ထံတော် သို့ မလာဘဲ နေ သနည်းဟု၍ ငင် မေး
မြန်းလျှင်၊ ဂိ လဒ် ပြည် ယာ ဗက် မြို့ သား တ
ယောက် မျှ စခန်း ရာ တပ် သို့ မ ရောက် မလာ
၉ ကြောင်းကို သိကြ၏၊- လူ များ တို့ကို ရေ တွက်
သော အခါ၊ ဂိလဒ် ပြည် ယာ ဗက် မြို့ သား တ
၁၀ ယောက် မျှ မပါ၊- ထို အခါ စခန်း သော သူတို့
သည် စစ် သူရဲ တသောင်း နှစ်ထောင် တို့ ကို စေ
လွှတ် လျှက်၊ သင်တို့ သည် သွား၍ ဂိလဒ် ပြည်
ယာဗက် မြို့သား၊ ယောက်ျားမိန်းမ သူငယ်တို့ကို
၁၁ ထား နှင့် လုပ် ကြံ ကြ လော့၊- သို့ ဆို သော်၊
ယောက်ျား အပေါင်း ကို ငင်၊ ယောက်ျား နှင့်
ဆက်ဆံသော မိန်းမအပေါင်းကို ငင်ရှင်းရှင်း ပယ်
၁၂ ရှားကြလော့ဟုမှာထားသည်အတိုင်း၊- စစ်သူ
ရဲတို့သည် ဂိလဒ်ပြည်ယာဗက်မြို့သားတို့တွင်၊
ယောက်ျား နှင့်မဆက်ဆံသေးသောကညာမိန်းမ
အပျိုလေးရာတို့ကိုတွေ့၍၊ ခါနာန်ပြည်၌တစ်ချ
၁၃ ရာ၊ ရှိလောမြို့သို့ ဆောင်ခဲ့ကြ၏၊- တဖန် စခန်း
သောသူအပေါင်းတို့သည်၊ ရိမ္မုန်ကျောက်၌နေ
သော ဗင်္ယာမိန် လူတို့ကို နှုတ်ဆက်၍ အသင့်အ
၁၄ တင့်ခေါ်ခြင်းငှါ၊ လူတို့ကိုစေလွှတ်ကြ၏၊-ထိုအ
ခါ ဗင်္ယာမိန် လူတို့သည် လာပြန်၍၊ ဣသရေလ
လူတို့သည်အရှင်ချန်ထားသော၊ ဂိလဒ်ပြည်ယာ
ဗက် မြို့သူ မိန်းမတို့ နှင့် ပေး စား ကြ၏၊ သို့ သော်
၁၅ လည်း၊ မိန်းမတို့ သည် မလောက် မငကြ၊- ထို သို့
ထာဝရဘုရားသည်၊ ဣသရေလအမျိုးအနွယ်
တို့တွင်ပြိုပျက်ရာကို ပြုတော်မူသောကြောင့်၊ ဣ
သရေလ လူ တို့သည်ဗင်္ယာမိန်အတွက် နောင်တ
ရကြ၏။
၁၆ စခန်း ရာ ပ ရိ သတ် အသက် ကြီး သူ တို့ က
လည်း၊ ဗင်္ယာမိန်အမျိုးထဲက မိန်းမတို့ကိုပယ်ရှင်း
သောကြောင့်၊ ကျန်ကြွင်းသောသူတို့အဖို့မိန်းမတို့
၁၇ ကိုအဘယ်သို့ရနိုင်သနည်းဟု၍ငင်၊- ဣသရေ
လအမျိုးတို့တွင်တမျိုးကို မပျောက်စေခြင်းငှါ၊

သေသေးမှ လွတ်သော ဗယ်ာမိန် လူတို့အမွေခံစ
၁၈ ရာမြေရှိရမည်။-သို့သော်လည်း၊အကြင်သူသည်
ဗယ်ာမိန်လူ၌ သမီးကိုပေးစား၏၊ ထိုသူသည် ကျိန်
ခံသော သူဖြစ်စေဟု၊ ဣသရေလ လူတို့သည်
ကျိန် ဆို ခြင်းကို ပြုသော ကြောင့်၊ ငါ တို့ သည်
၁၉ ကိုယ်သမီးတို့ကိုမပေးစားရဟုဆိုရင်၊-ဗေသလ
မြို့မြောက်ထက်၊ ဗေသလမြို့မှရှေခင်မြို့သို့သွား
သော လမ်း အရှေ့ ဘက်၊ လေဗောနမြို့ တောင်
ဘက်၊ ရှိသော မြို့နယ်တွင်၊ ထာဝရ ဘုရားအဖို့
နှစ်စည်ပွဲခံတတ်သည်ဟုဆိုရင် တိုင်ပင်ကြသည်
၂၀ နှင့်အညီ၊- ဗယ်ာ မိန် လူ တို့ကို ခေါ်၍၊ သင် တို့
သည်သွားကြလော့၊ စပျစ်ဥယည်တို့၌ ချောင်း
မြောင်းလျက်နေကြလော့၊ရှိလောမြို့သမီးတို့သည်
၂၁ ပွဲခံထွက်သော၌၊ ကလျက်လာကြသောအခါ၊-စ
ပျစ်ဥယည်ထဲက ထွက်ပြီးလျှင်၊ ထိုမြို့သမီးတို့ကို
အသီးအသီး ကိုယ်မယားဖြစ်စေခြင်းငှါဖမ်းဆီး၍၊
၂၂ ဗယ်ာမိန်ပြည်သို့ ဆောင်သွားကြလော့၊- သူတို့
အဖနှင့် မောင်တို့သည် ငါတို့ထံသို့လာ၍ ...
တုပ်သော အခါ၊ ငါတို့က၊ ငါတို့ ချစ်နှာ ကို
ထောက်၍၊ သူတို့ကို ထနားကြပါ။ စစ်တိုက်ရာ
တွင်၊သူတို့အသီးအသီးဆိုင်သောမယားတို့ကို
သူတို့အဖို့ငါတို့သည်မရှုန်မထားမိပါ။သင်တို့၌
အပြစ်ရောက်စေခြင်းငှါ ထရပေးစားကြသည်
မဟုတ်ဟု၊သူတို့အားပြန်ပြောမည်ဟုမှာထား
၂၃ ကြသည် အတိုင်း။- ဗယ်ာမိန်လူတို့ သည် ပြု၍၊
ပွဲခံလျက် ကသော မိန်းမတို့ကိုကိုယ်အရေအတွက်
အတိုင်း၊မယားဖြစ်ခြင်းငှါဖမ်းဆီး၍ယူသွားကြ
၏၊ ကိုယ်အမွေခံရာ မြေသို့ ပြန်ရောက်ပြီးလျှင်၊
၂၄ မြို့တို့ကိုအသစ်ပြုပြင်ဆောက်၍ နေကြ၏။- ထိုအခါဣ
သရေလ လူအပေါင်း တို့ သည် ထည်း ကိုယ် အ
မျိုး၊ကိုယ်အဆွေနေရာ၊ကိုယ်အမွေခံရာမြေသို့
၂၅ ပြန်သွားကြ၏။- ထိုကာလ၌ ဣသရေလ ရှင်ဘု
ရင်မရှိ၊ လူတိုင်း မိမိမိတ်အထင် ရှိသည်အတိုင်း
ပြုသတည်း။

တရားသူကြီးမှတ်စာပြီး၏။

---

# ရုသဝတ္ထု။

## RUTH.

၁

၁ တရားသူကြီး အုပ်စိုး သော ကာလ၊ တရံရော
အခါ၊ဣသရေလပြည်၌ အစာအာထာရခေါင်း
ပါး၍၊ ယုဒ ပြည် ဗက်လင် မြို့ သား တ ယောက်
သည်၊ မယားနှင့်သားနှစ်ယောက်ပါလျက်၊မော
၂ အပြည်၌ တည်း ခိုခြင်းငှါ သွား၏။- ထိုသူ၏အ
မည်ကား၊ ဧလိမလက်၊ မယားအမည်ကား၊နော
မိ၊သားနှစ်ယောက်အမည်ကား၊မဟာလုန်နှင့်
ခိလျုန်တည်း။ သူတို့သည်ယုဒပြည်၊ ဗက်လင်
မြို့၊ဧဖရတ် အရပ်သားဖြစ်လျက်၊ မောအပြည်
၃ သို့ သွား၍ နေ ကြ ၏။- နောမိ ၏ ခင်ပွန်း ဧလိမ
လက်သည်သေ၍၊မယားနှင့်သား နှစ်ယောက်
၄ ကျိုသည် ကျန်ရစ်ကြ၏။- သားတို့သည် မောအ
ပြည်သူ၊ ဩရပနှင့် ရုသအမည်ရှိသော မိန်း နှစ်
ယောက် တို့နှင့် စုံဖက်ခြင်းကိုပြု၍၊ ထိုပြည်မှာ
၅ ဆယ်နှစ်ခန့်မျှနေပြီးမှ၊-ထိုသားနှစ်ယောက်၊ မ
ဟာလုန်နှင့်ခိလျုန်တို့သည်သေ၍၊နောမိသည်
သားမရှိ၊ခင်ပွန်းလည်းမရှိ၊ကျန်ရစ်သေး၏။
၆ တ ဝန် ထာ ဝ ရ ဘုရား သည် မိမိ လူ မျိုးကို အ
ကြည့် အ ရှု ကြ ၍၊ စုန် ကို ပေး သ နား တော်မူ
ကြောင်း ကို ထိုမိန်း သည် မော အ ပြည် ၌ ကြား
သော အခါ၊ မောအ ပြည်မှ ပြန်သွားမည်ဟု၊
၇ ချွေးမနှစ်ယောက်နှင့်အတူထ၍၊- တည်းခိုရာ
အရပ်က ထွက် ပြီးလျှင်၊ ယုဒပြည်သို့ရောက်အံ့
၈ သော ငှါ သွား ကြ ၏။- သို့ရာ တွင်၊ ချွေးမ နှစ်
ယောက် တို့အား၊ သင်တို့သည် ကိုယ်အမိ အိမ်
သို့ပြန်သွား၊ ကြလော့၊ သေလွန်သော သူ၌ ငါ၌၊
ငါ၌ ငါ့၊ ကျေးဇူး ပြု သည် နှင့် အ ညီ၊ ထာ ဝရ

ဘုရားသည်သင်တို့၌ ကျေးဇူး ပြုတော်မူပါစေ
၉ သော။- သင် တို့ နှစ် ယောက် ထည်း၊ နေ့တ်ရ
သော ထင် အိမ် ၌ ငြိမ်း သာ စွာ နေ ရ မည် အ
ကြောင်း၊ထာဝရဘုရား၊ကယ်မသနားတော်မူပါ
စေသောဟုဆိုလျှတ်၊ သူတို့ကိုနမ်းသေ၏၊ သူတို့
၁၀ သည်ထည်း၊ အသံကိုလွှင့်၍ငိုကြွေးလျှက်၊-အ
ထယ် စင် စစ် အကျွန်ုပ်တို့သည် ကိုယ် တော်နှင့်
အတူ၊ကိုယ်တော် ၏ အမျိုးထံသို့ လိုက် သွားပါ
၁၁ မည်ဟုဆိုကြ၏၊-နောမိကထည်း၊ငါ့သမီးတို့၊ပြန်
သွား ကြ လော့၊ ငါ နှင့် အတူ အ ထယ် ကြောင့်
လိုက်ရမည်နည်း၊ သင်တို့ထင်လျှာဘို့ငါ၏ဝမ်း
၁၂ ၌သားရှိသေးသလော၊- ငါ့သမီးတို့၊ပြန်သွားကြ
လော့၊ ငါသည်အသက် အရွယ် လွန်၍၊ ထင်နှင့်
မနေသင့်၊သို့မထုတ်၊ မျှော်လင့်စရာရှိသေးသဖြင့်
ထု ငါဆို လျှင်ငှင်၊ ယနေ့ညမှာ ထင်နေလျှင်ငှင်၊
၁၃ ထားတို့ကိုထည်းဖွားမြင်လျှင်ငှင်၊- ထိုသားတို့
သည် ကြီး ပွားသည် တိုင်အောင် ငံ့နေလိမ့်မည်
လော၊ ထင်မနေတဲ၊သူတို့ကိုမျှော်ထင့်လိမ့်မည်
လော၊ ငါ့သမီးတို့၊ ထိုသို့ မဖြစ်ရ၊ ထာ ဝရ ဘုရား
လက်တော်သည် ငါ၌ကန့်ထန့်ရှိသည် ကို၊ သင်တို့
အတွက် ငါ အလွန်ကြင်နာသောစိတ်ရှိသည်ဟု
၁၄ ဆို လေသော်၊- သူတို့သည် တဖန် အသံ ကို လွှင့်
၍ ငို ကြွေးကြ၏၊ ထိုအခါဩရပသည် ယောက္ခ
မကိုနမ်း၍၊ မိမိအမျိုးသားတို့ထံသို့ပြန်သွား၏၊
ရုသမူကား၊ ယောက္ခမ၌ မှီ၍ ထည်း ကပ်လျှတ်
၁၅ နေသေး၏၊- နောမိ က ထည်း၊ သင့် အစ်မ သည်
အမျိုးသားရင်း၊ ဘုရား ရင်းတို့ထံ သို့ ပြန် သွား
ပြီ၊အစ်မနောက်သို့လိုက်သွားပါဟု ဆိုသော်၊-
၁၆ ရုသက၊ ကျွန်မသည် ကိုယ်တော်ကို မစွန့် ပါ ရ
စေနှင့်၊ နောက်တော် သို့မလိုက်ဘဲ၊ ပြန်သွားစေ
ခြင်းငှါမပြုပါနှင့်၊ကိုယ်တော်သွားလေရာရာသို့
ကျွန်မလိုက်ပါမည်၊ ကိုယ်တော်အိပ်လေရာရာ
၌ကျွန် မအိပ် ပါမည်၊ ကိုယ် တော် အမျိုး သည်
ကျွန်မ အမျိုး၊ ကိုယ် တော် ဘုရား သည် ကျွန်မ
၁၇ ဘုရား ဖြစ်ပါစေ၊- ကိုယ် တော် သေရာ အရပ်၌
ကျွန်မသေ၍၊သင်းဂြိုဟ်ခံပါမည်၊သေခြင်းမှတ
ပါး၊ အခြားသော အမှုကြောင့် ကိုယ် တော်နှင့်
ကျွန်မကွာလျှင်၊ထာဝရဘုရားသည်ကျွန်မ၌ထို
၁၈ မျှမက ပြု တော် မူ ပါ စေ သော ဟု ပြန် ဆို ၏၊-ရု
သသည် လိုက် ခြင်းငှါ မိုင် ခံ့သောစိတ် ရှိသည်
ကို၊ နောမိသည် သိမြင်သော်၊ တိတ်ဆိတ်စွာနေ
လေ၏၊

၁၉ ထိုသူ နှစ်ယောက်တို့သည် ခရီးသွား၍၊ဗက်
ထင်မြို့သို့ ရောက် သော အခါ၊ တ မြို့ လုံး ဆူတ်
ဆူတ် ကျက် ကျက် ဖြစ် ၍၊ ဤ သူ ကား၊ နောမိ
၂၀ ထုတ်သင်ထောဟုမေးကြ၏၊-သူကလည်း၊နောမိ
ဟူ ၍ မခေါ်ပါနှင့်၊ မာရ ဟူ ၍ ခေါ်ပါ၊ အနန္တ
တန်ခိုးရှင်သည် ငါ့အား အလွန် ခါးသော အရာ
၂၁ ကိုပေးတော်မူပြီ၊-ငါသည်ကြွယ်ဝပြည့်စုံလျှက်
ထွက်သွား၏၊ယခုမူကား၊ဆင်းရဲလျှက်တကိုယ်
တည်းရှိ၍၊ထာဝရဘုရားသည်ငါ့ကိုပြန်တော်
မူပြီ၊ ထာဝရဘုရားသည် ငါ့ကို နှိမ့်ချ၍၊ အနန္တ
တန်ခိုးရှင်သည်ငါ့ကိုဆင်းရဲစေတော်မူသည်ဖြစ်
၍၊ နောမိအမည်ဖြင့် အဘယ်ကြောင့် ငါ့ကိုခေါ်
၂၂ ကြသနည်းဟုပြန်ပြော၏၊- ထိုသို့မောအပြည်မှ
လိုက်လာသော၊ မောအပြည်သူချွေးမရုသနှင့်
အတူ၊ နောမိသည် ပြန်လာ၍၊ မုယောစပါးကို
ရိတ်စ ကာ လ ၌ ဗက် ထင်မြို့သို့ ရောက်ကြ၏၊

၂

၁ နောမိ၏ထင်ဧလိမလက် ၏ အဆွေအမျိုးတွင်၊
အလွန် ရတတ်သော ပေါက်ဖော် တယောက်ရှိ
၂ ၏၊ သူ၏ အမည်ကား၊ ဗောဇတည်း၊- မောအ
ပြည်သူ ရုသက၊ ကျွန်မသည်လယ်ပြင်သို့သွား
၍၊မိတ်နှင့်တွေ့သော သူနောက်မှာစပါးကျွန်ကို
ကောက်ပါရစေဟု၊ နောမိ၌အခွင့်ပန်လျှင်၊နော
၃ မိက၊ သွားတော့ ငါ့သမီးဟု ဆို၏၊-ရုသသည်သွား
၍၊စပါးရိတ်သောသူတို့နောက်မှာ၊စပါးကျွန်ကို
ကောက် သည်တွင်၊ ဧလိမလက်၏အဆွေ အမျိုး
ဗောဇ ပိုင်သော လယ်၌ အမှတ် တမဲ့ နေရာကျ
၄ ၏၊-ထိုအခါဗောဇသည်၊ဗက်လင်မြို့ကလာ၍၊
ထာဝရ ဘုရားသည် သင်တို့နှင့်အတူ ရှိတော်မူ
ပါစေသောဟု၊ရိတ်သောသူတို့အားဆို လျှင်၊သူ
တို့က၊ ကိုယ် တော် ကို ထာ ဝရ ဘုရား ကောင်း
ကြီးပေးတော် မူပါစေသောဟု ပြန်ပြောကြ၏၊-
၅ ဗောဇက လည်း၊ ထိုမိန်းမငယ် သည် အဘယ်သူ
နှင့်ဆိုင်သနည်းဟု၊လယ်ခေါင်းအားမေးသော်၊-
၆ လယ်ခေါင်းက၊ မောအ ပြည်မှ နောမိနှင့် အတူ
၇ လိုက်လာသော မောအအမျိုးသမီး ဖြစ်ပါ၏-သူ
ကထည်း၊ ကျွန်မသည် စပါး ရိတ် သော သူတို့
နောက်၌ ကောက်ထိုင်းစုထဲမှာ ကျန်သောစပါး
ကို ကောက် သိမ်း ပါ ရ စေ ဟု၊ အ ခွင့် တောင်း
လျှတ်ဝင်သဖြင့်၊နံနက်မှစ၍၊ ယခုအထဲ၌ နေ
သော အမှန်ထိုင်အောင်လုပ်နေပါပြီဟုပြောဆို
၈ လျှင်၊-ဗောဇသည်ရုသကိုခေါ်၍၊နားထောင်ပါ၊

ထွေး၊ အခြားသောလယ်သို့သွား၍၊ စပါးကျန်
ကိုမကောက်နှင့်။ ဤအရပ်ကမထွက်ဘဲ၊ ငါ့ကျွန်
၉ မတို့၌ မှီဝဲ လျှောက် နေလော့။— သူတို့ ရိတ် သော
လယ် ကွက် ကို ကြည့် ရှု၍၊ သူတို့ နောက်၌
လိုက်လော့။ လုလင်တို့သည်သင့်ကိုမနှောင့်ရှက်
ရမည်အကြောင်း၊ ငါမှာထားပြီ။ ရေငတ်သော
အခါ၊ အိုးထားရာ သို့ သွား၍၊ လုလင်ခပ်သော
၁၀ ရေကို သောက် တော့ ဟု ဆို လေ သော်၊— ရုထ
သည်မြေပေါ်မှာ ဦးချပျပ်ဝပ်လျက်၊ ကျွန်မသည်
တပါးအမျိုးသားဖြစ်၍၊ ကိုယ်တော်သည်ကျွန်
မကို သိမှတ်မည်အကြောင်း၊ အဘယ်သို့ မိတ်
တော်နှင့်တွေ့ရပါသနည်းဟု လျှောက်လေ၏။—
၁၁ ဗောဇကလည်း၊ သင်၏ လင် သေ သောနောက်၊
သင်သည် ယောက္ခမအား ပြုစုသမျှကို၎င်း၊ သင်
သည်မိဘနှင့်မွေးဖွားရာ ပြည်ကိုစွန့်၍၊ အ
ထက်က မသိဘူးသောပြည်သို့လာကြောင်းကို
၁၂ ၎င်း၊ အထောထောသောသူများ ပြောကြပြီ။— သင့်အမှု၏
အကျိုး ကို ထာ ဝ ရ ဘုရား ပေး တော် မူ ပါ စေ
သော။ သင်သည်အတောင်တော်အောက်၌ခိုလှုံ
ခြင်းငှါ ချဉ်း ကပ် သော၊ ဣသ ရေ လ အမျိုး ၏
ဘုရားသခင်ထာဝရဘုရားသည် နှံ့ထင်သောဆု
၁၃ ကို ချတော် မူပါ စေ သောဟု ဆိုသော်၊— ရုသက
လည်း၊ သခင်၊ ကျွန်မသည်ရှေ့တော်၌မျက်နှာရ
ပါစေ။ ကျွန်မ သည် ကိုယ် တော် ကျွန်မတို့နှင့် မ
တူသော်လည်း၊ ကိုယ်တော်သည် လောကဝတ်
စကားကိုပြော၍၊ ကျွန်မကိုနှစ်သိမ့် စေပါပြီဟု
၁၄ လျှောက်လေ၏။— ဗောဇကလည်း၊ စားသောက်
သောအချိန်ရှိပြီ။ လာ၍ မုန့်ကိုစားလော့။ ပုံးရည်
၌ စားစရာကိုနှစ်လော့ဟု ခေါ်ဆိုသည်အတိုင်း၊
ရုသသည် စပါးရိတ်သော သူတို့နှင့်အတူ ထိုင်
လျှင်၊ ဗောဇသည်ပေါက်ပေါက်ကိုလှမ်း၍ပေး
သဖြင့်၊ သူသည်ဝစွာစားပြီးမှ၊ ချန်ထားသေး၏။—
၁၅ စပါးကျန်ကို ကောက်ခြင်းငှါ ထသွား သော အ
ခါ၊ ဗောဇ သည် လုလင် တို့ အား၊ ထို မိန်းမ သည်
ကောက် လှိုင်း စု ထဲ မှာ ကျန် သော စပါး ကို
၁၆ ကောက်သိမ်းပါစေ။ အရှက်မခွဲကြနှင့်။— ရိတ်ပြီး
သောစပါးအနှံ့ကိုလည်း သူ အမှီချထားလော့။
ကောက်လှုပါစေ။ အပြစ်မတင်ကြနှင့်ဟု မှာထား
၁၇ ၏။— ရုသသည်ထိုလယ်၌ ညဦးတိုင်အောင်စပါး
ကျန်ကိုကောက်၍၊ ရသောစပါးကိုနယ်ပြီးလျှင်
၁၈ မုယော ဆန် တဧဖာ ခန့်မျှ ရှိ၏။— ထိုဆန်ကို ယူ
၍၊ မြို့ထဲသို့ဝင်သဖြင့်၊ ကောက်၍ ရသောဆန်ကို

လည်း၊ ယောက္ခမ အား ပြ၏။ ဝစွာ စားပြီးမှ ချန်
ထားသောအရာကိုလည်းထုတ်၍ပေးလေ၏။—
၁၉ ယောက္ခမ က လည်း၊ ယနေ့ အ ဘယ် မှာ စပါး
ကျန်ကို ကောက် သနည်း။ အဘယ်မှာ လုပ်သ
နည်း။ သင့်ကို သိမှတ်သော သူ သည် မင်္ဂလာ ရှိပါ
စေသောဟုမြွက်ဆိုလျှင်၊ ရုသက၊ ယနေ့ ကျွန်မ
လုပ်သောသူ၏အမည်ကား၊ ဗောဇဖြစ်ပါသည်ဟု
၂၀ ယောက္ခမအားကြားပြောသော်၊— ယောက္ခမ
က၊ အသက်ရှင်သောသူ၊ သေသောသူတို့၌ကျေး
ဇူး မပြတ် ပြုတော် မူသော ထာဝရ ဘုရား
သည်၊ သူ့ကိုကောင်းကြီးပေးတော်မူပါစေသော
ဟု၍၎င်း၊ ထိုသူသည်ငါတို့နှင့် ပေါက်ဖော်တော်
သောသူ၊ နီးစပ်သောအမျိုးသားချင်းအဝင်ဖြစ်
၂၁ သည် ဟု၍၎င်း၊ ချွေးမ အား ပြောဆို၏။— မိုအာ
ဘ၊ ငါ့စပါးရိတ်ခြင်း အမှု မပြီးမှီတိုင်အောင်၊ ငါ
လုလင်တို့၌ မှီဝဲ လျှောက် နေ လော့ ဟု ဆို ကြောင်းကို
လည်း၊ မောအဘအမျိုးသမီး ရုသသည် ကြားပြော
၂၂ သော်၊— နောမိက၊ ငါ့သမီး၊ သင်သည် သူ၏ ကျွန်မ
တို့နှင့် လိုက်သွားကောင်း၏။ အခြားသောလယ်
၌ သူတို့သည် သင့်ကို မတွေ့စေကောင်းဟု ချွေးမ
၂၃ ရုသအားပြောသည်အတိုင်း၊— သူသည် မုယော
စပါး၊ ဂျုံစပါးရိတ်ခြင်းအမှုပြီးဆုံးတိုင်အောင်
ဗောဇ၏ ကျွန်မ တို့၌ မှီဝဲလျှက်၊ စပါး ကျန် ကို
ကောက်၍ ယောက္ခမထံမှာနေလေ၏။

၃

၁ တဖန် ယောက္ခမ နောမိက၊ ငါ့သမီး၊ သင့်ကို ချမ်း
သာစေခြင်းငှါ၊ ငြိမ်ဝပ်ရာအရပ်ကို သင့်အဖို့ ငါ
၂ မရှာရသလော။— သင်ပေါင်းဖော်သော ကျွန်မတို့
၏သခင်ဗောဇသည်၊ ငါတို့ပေါက်ဖော်ဖြစ်သည်
မဟုတ်လော။ ယနေ့ညမှာ ကောက်နယ်တလင်း
၃ ၌ မုယောစပါးကို လှေ့လျှက်နေ၏။— သင်သည် ရေ
ချိုးခြင်း၊ ဆီလိမ်းခြင်း၊ အဝတ်တန်ဆာဆင်ခြင်း
ကိုပြုပြီးလျှင်၊ ကောက် နယ် တ လင်း သို့ သွား
လော့။ သူသည် စားသောက်ခြင်းအမှုကိုမပြီးမှီ
၄ ကိုယ်ကိုမပြနှင့်။— သူအိပ်သောအခါ၊ အိပ်ရာအ
ရပ်ကိုမှတ်ပြီးမှ၊ ဝင်၍ သူ့ခြေ၌ ခြုံသော အဝတ်
ကို ဖွင့် ပြီးလျှင် အိပ်လော့။ သင်သည် အဘယ်
သို့ပြုရမည်ကို သူပြောလိမ့်မည်ဟု ဆိုသော်၊—
၅ ရုသက၊ မိခင် မှာ ထား သမျှတို့ကို ပြုပါမည်ဟု
၆ ဝန်ခံလျှက်၊— ကောက်နယ်တလင်းသို့ သွား၍၊
၇ ယောက္ခမမှာထားသမျှအတိုင်း ပြုလေ၏။— ဗော
ဇသည် စားသောက်၍ စိတ်ရွှင်လျှက်၊ စပါးပုံ

အနားသို့ သွား၍ အိပ် သော အခါ၊ ရုသ သည်
တိတ်ဆိတ်စွာချည်းကပ်၍၊ သူခြေခွံဖုံးသောအ
၈ ဝတ်ကိုခွင့်ပြီးလျှင် အိပ်လေ၏။– သန်းခေါင်အ
ချိန်၌ယောကျ်ားသည် ထန့်၍လှည့်သဖြင့်၊ မိန်း
၉ မသည်ခြေရင်း၌ရှိသည်ကိုသိလျှက်၊–သင်သည်
အဘယ်သူနည်းဟုမေးလျှင်၊ ကျွန်မသည်ကိုယ်
တော်၏ ကျွန်မရုသဖြစ်ပါ၏၊ ကိုယ်တော် သည်
ရွေးပိုင်သောအမျိုးသားချင်း ဖြစ်သောကြောင့်၊
ကိုယ်တော်၏ကျွန်မကိုအဝတ်တော် စွန်းနှင့်ဖုံး
၁၀ ပါတော့ ဟု ဆိုသော်၊– သူက၊ သမီး၊ ထာဝရ
ဘုရားကောင်းကြီးပေးတော်မူပါစေသော။ သင်
သည် ဆင်းရဲသောလူပျို၊ ဆင်းရဲသောလူပျို
တစုံတယောက်ကိုမမှီဝဲဘဲနေ၍၊ အရင်ပြုသော
ကျေးဇူးထက်၊ နောက် ပြုသော ကျေးဇူးသာ၍
၁၁ ကြီး၏။–မစိုးရိမ်နှင့်၊ သမီး၊ ကောင်းသမျှကိုငါပြု
မည်၊ သင်သည် သီလနှင့် ပြည့်စုံသော မိန်းမဖြစ်
ကြောင်းကို၊ ငါ့လူမျိုး နေသောတမြို့လုံး သိ၏။–
၁၂ ငါသည်ရွေးပိုင်သော အမျိုးသားချင်းမှန်ပေ၏၊
သို့သော်လည်း၊ ငါ့ထက်သာ၍ ရွေးပိုင်သောအ
၁၃ မျိုးသားချင်းတယောက်ရှိသေး၏။–ယနေ့ညမှာ
နေဦးတော့၊ ထိုသူသည် ရွေးပိုင်သော အမျိုးသား
ချင်းဝတ်ကိုပြုလိုလျှင်၊ ပြုပါစေ၊ ကောင်း၏၊
မပြုလျှင်၊ ထာဝရဘုရား အသက် ရှင် တော်မူ
သည်အတိုင်း၊ ငါပြုမည်၊ နံနက်တိုင်အောင်အိပ်
ဦးတော့ဟုဆို၏၊
၁၄ ရုသသည် နံနက် တိုင် အောင် သူခြေရင်းနား
မှာအိပ်ပြီးမှ၊ တယောက်ကို တယောက် သိနိုင်
သော အချိန် မရောက်မှီ ထ လေ၏၊ ယောကျ်ား
သည်လည်း၊ မိန်းမသည် ဤကောက်နယ် တလင်းသို့
လာသည်ကိုအဘယ်သူမျှမသိစေနှင့်ဟုဆို၏။–
၁၅ တစ်နံသင်၌ ပါသော တင်းတိမ် ကို ယူခဲ့၍ ဖြန့်
ခင်းတော့ဟု ဆိုသည်အတိုင်း၊ ရုသဖြန့်လျှက်၊
မုယောစပါးခြောက်ခွဲကိုခြင်၍သူ့အပေါ်မှာ
တင် သဖြင့်၊ သူသည် မြို့ထဲသို့ သွား လေ ၏။–
၁၆ ယောက္ခမ ထံသို့ ရောက်သော အခါ၊ ယောက္ခမ
က၊ အဘယ်သို့နည်းဟုမေးလျှင်၊ မိမိ၌ ထိုသူပြု
၁၇ သမျှကိုပြန်၊–သူက၊ သင် သည် ယောက္ခမ ထံသို့
အချည်းမသွားနှင့်ဟုဆိုလျှက်၊ မုယောစပါး
ခြောက်ခွဲပေးကြောင်းကိုပြန် ကြားပြောလေ
၁၈ ၏။– ယောက္ခမကလည်း၊ သမီး၊ ဤအမှုသည်
အဘယ် သို့ ပြီး ထိမ်မည်ကို မသိမှီတိုင်အောင်
ထိုင် နေ တော့၊ ယောကျ်ားသည် ယနေ့ ဤ အ
မှုကို မပြီး စီးမှီ၊ ငြိမ်ဝပ်စွာ မနေဟု ပြော ဆို၏၊

၄

၁ ထိုအခါ ဗောဇသည် မြို့ တံခါး ဝ သို့ သွား၍
ထိုင်သဖြင့်၊ မနေ့ကပြောသော အမျိုးသား ချင်း
ရှောက်သွားသည်ကို မြင်လျှင်၊ အိုမည်သူ၊ လှည့်
၍ထိုင်ပါတော့ဟုခေါ်သည်အတိုင်း၊ ထိုသည်
၂ လှည့်၍ထိုင်လေ၏။– တပန်မြို့သား၊ အသက်ကြီး
သူတကျိပ်တို့ကိုခေါ်၍၊ သဉ်မှာထိုင်ပါတော့ဟု
ဆိုသည်အတိုင်း၊ သူတို့သည်လည်း၊ထိုင်ကြ၏။–
၃ အမျိုး သားချင်း ကိုလည်း၊ မောဘ ပြည်မှ ပြန်
လာသောနောမိသည် ငါတို့ အစ်ကို ဧလိမလက်
၄ ပိုင်သောမြေအကွက်ကိုရောင်းမည်ဖြစ်၍၊–သင့်
ကိုငါတိုင်ကြားလျှက်၊ ပြည်သားများ၊ ငါ့ထို့အ
မျိုး၌အသက်ကြီးသူများရှေ့မှာဝယ်ပါတော့ဟု
ပြောမည် အကြံရှိပါ၏၊ သင်သည် ရွေးလိုလျှင်၊
ရွေးပါတော့၊ မရွေးလိုလျှင်၊ ကျွန်ုပ်အား ကြား
ပြော ပါတော့၊ သင်မှတပါး၊ ရွေးပိုင်သောသူ မ
ရှိ၊ သင့်နောက်မှာ ကျွန်ုပ် နေရာကျသည်ဟု ဆို
သော်၊ အမျိုးသားချင်းက၊ ကျွန်ုပ် ရွေးမည်ဟု
၅ ပြန်ပြော၏။–ဗောဇကလည်း၊ ထိုလယ်ကွက်ကို
နောမိထက်မှဝယ်သောနေ့ရက်တွင်၊ သေသော
သူ၏ အမွေဥစ္စာအားဖြင့်သူ၏နာမဉ်ကိုထောင်
မြင်းငှါ၊ သူ၏မယား၊ မောဘအမျိုး သမီး ရုသကို
၆ လည်း ဝယ် ရ သေး သည်ဟု ဆိုသော်၊–အမျိုး
သားချင်းက၊ ကျွန်ုပ်သည် ကိုယ်အဖို့ မရွေး နိုင်
ပါ၊ ရွေးလျှင်၊ ကိုယ်အမွေဥစ္စာကို ဖျက်မည်စိုး
ရိမ် စရာ ရှိ၏၊ ကျွန်ုပ် မရွေး နိုင် သော ကြောင့်၊
ကျွန်ုပ်ရွေးပိုင်သော အရာကို ကိုယ်အဖို့ ရွေးပါ
၇ တော့ဟုပြန်ပြော၏။–ဣသရေလရှေးထုံးစံတွင်
ကား၊ ရွေးခြင်းအမှု၊ ဥစ္စာလဲခြင်းအမှုကို မြဲမြံစေ
ခြင်းငှါ၊ တယောက်သောသူသည် မိမိခြေနင်းကို
ချွတ်၍၊ တယောက်သောသူအား အပ်လေ့ရှိ၏၊
ထိုသို့ပြုသော အားဖြင့် ဣသ ရေလ အမျိုးသား
၈ တို့တွင် သက်သေ တည်ရ၏။– သို့ဖြစ်၍၊ အမျိုး
သားချင်းက၊ ကိုယ် အဖို့ ဝယ်ပါတော့ဟု၊ ဗော
၉ ဇအား ဆို၍၊ မိမိခြေနင်းကိုချွတ်၏။– ဗောဇက
လည်း၊ ဧလိမလက်ဥစ္စာ၊ မဟလုန်ဥစ္စာ၊ ခိလျုန်
၁၀ ဥစ္စာ ဟူသမျှကို နောမိထက်မှ ငါဝယ်၍၊–သေ
သောသူ၏နာမည်ကိုသူ၏ညီအစ်ကို စုထဲကပျောက်၍၊
သူနေရာမြို့တံခါး၊ ထဲကပင်မပြတ်စေခြင်းငှါ၊ သူ
၏အမွေဥစ္စာအားဖြင့် သူ၏နာမည်ကိုထောက်မည်
အကြောင်း၊ မဟလုန်၏မယား၊ မောဘအမျိုး

ထွီး ရုသကိုငါ ၏ မယား ဖြစ်စေခြင်း၌၊ ငါဝယ်
သည်ကိုသင်တို့သည်သက်သေဖြစ်ကြပါ
၏ထု၊ အသက်ကြီးသူများ၊ လူများ အပေါင်း တို့
၁၁ အားပြောဆို၏၊–တံခါး၀၌ရှိသောအသက်ကြီး
သူများ၊လူများအပေါင်းတို့ကလည်း၊ငါတို့သည်
သက်သေဖြစ်ကြ၏၊သင့်အိမ်သို့ရောက်သော၌
မိန္မသဉ်၊ဣသရေလအမျိုးကိုတည်ထောင်သော
မိန္မနှစ်ယောက်၊ ရာခေလ နှင့်လေအာကဲ့သို့ ဖြစ်
မည် အကြောင်း၊ထာဝရဘုရားပြုတော်မူပါစေ
သော၊ သင်သည်လည်း၊ဧဖရတ်အရပ်၌အစွမ်း
သတ္တိနှင့်ပြည့်စုံ၍၊ဗက်လင်မြို့၌အသရေကျော်
၁၂ ရစေခြင်းရှိပါစေသော၊–အသက်ပျိုသော ဤမိန္မ
တွင်၊ ထာဝရဘုရား ပေးတော်မူ လတ္တံ့သော မျိုး
စေ့အားဖြင့်၊ သင်၏ အမျိုးအနွယ်သည် ယုဒ မ
ယား တာမာ ဘွားမြင် သော ဖာရက် အမျိုး အ
နွယ်ကဲ့သို့ဖြစ်ပါစေသောဟုပြောဆိုကြ၏၊
၁၃ ဗောဇ သည် ရု သ ကို သိမ်း၍ စုံဖက် လျက်
ဆက်ဆံသောအခါ၊ ထာဝရဘုရား၏ ကျေးဇူး
တော်ကြောင့်၊ ရုသသည် ပဋိသန္ဓေယူ၍၊သား
၁၄ ယောက်ျား ကို ဘွား မြင် လေ ၏၊– မိန္မ တို့ သည်
လည်းနောမိအား၊သင့်ကိုပြုစုသောအမျိုးသား
ချင်းကို ယနေ့ မြစ်တော်မမူသောထာဝရဘုရား
သည်မင်္ဂလာရှိတော်မူပါစေသော၊ ထိုရှုရသော
အမျိုးသားချင်း သည်လည်း၊ ဣသရေလအမျိုး
၁၅ ၌အသရေကျော်စေသော်ပါစေသော၊–သူသည်သင်
၏အသက်ကို ပြုပြင်သောသူ၊ သင် အသက်ကြီး
သောအခါ၊ သင့်ကိုကောင်းစွာ ပြုစုသောသူ
ဖြစ်ပါစေသော၊သင့်ကိုချစ်၍၊သားခုနစ်ယောက်
ထက်၊ သင့်အဖို့သာ၍ကောင်းသောသင်၏ချွေး
မသည်၊ သားယောက်ျားကိုဘွားမြင်ပြီဟု ပြော
၁၆ ဆိုကြ၏၊– နောမိသည် ထိုသူငယ်ကိုယူ၍၊ ရင်ခွင်
၁၇ ၌ရှိလျက် ထိန်း လေ ၏၊– အိမ် နီး ချင်း မိန္မ တို့က
လည်း၊ နောမိသည် သားယောက်ျားကို ရပြီဟု
ဆိုလျက်၊ထိုသူငယ်ကိုဩဗက်အမည်ဖြင့်မှည့်
ကြ၏၊ ဩဗက် သားကား၊ ယေရှဲ၊ ယေရှဲ သား
ဒါဝိဒ်တည်း။
၁၈ ဖာရက်၏သားစဉ် မြေးဆက်တူမူကား၊ဖာ
၁၉ ရက်သားဟေဇရုံ၊– ဟေဇရုံသား အာရံ၊အာရံ
၂၀ သား အမိနဒပ်၊– အမိနဒပ်သား နာရှုန်၊ နာရှုန်
၂၁ သားစာလမုန်၊– စာလမုန်သား ဗောဇ၊ ဗောဇ
၂၂ သားဩဗက်၊– ဩဗက်သားယေရှဲ၊ယေရှဲသား
ဒါဝိဒ်တည်း။

ရုသဝတ္ထုပြီး၏။

---

# ဓမ္မရာဇဝင်ပဌမစောင်။

## FIRST BOOK OF SAMUEL.

### ၁

၁ ဧဖရိမ်မြို့သားရုဖ၊ တောဟု၊ ဧလိဟု၊ယေ
ရောဟံမှဆင်းသက်၍၊ ဧဖရိမ် တောင်ပေါ်မှာ၊
ရာမသိမ်ဇောဖိမ်မြို့၌နေသော၊ ဧလကာန အမည်
၂ ရှိသောသူတယောက်ရှိ၏၊– ထိုသူသည်မယား
နှစ် ယောက်ရှိ ၏၊ တယောက် ကား၊ ဟန္န၊ တ
ယောက်ကား၊ပေနိန္န အမည်ရှိ၏၊ပေနိန္န၌သား
၃ သမီးရှိ၏၊ ဟန္န၌မရှိ၊– ဧလကာန သည် ကောင်း
ကင်ဗိုလ်ခြေ အရှင် ထာဝရဘုရားကို ကိုးကွယ်
၍ယဇ်ပူဇော် ခြင်းငှါ၊ မိမိနေရာမြို့မှရှိလောမြို့
သို့နှစ်တိုင်း သွားမြဲရှိ၏၊ ထာဝရဘုရား၏ ယဇ်
ပုရောဟိတ် ဧလိ၏သား၊ ဟောဖနိနှင့်ဖိနဟတ်
သည်ရှိလောမြို့၌နေသတည်း။
၄ ဧလကာန သည် ယဇ် ပူ ဇော် အချိန် ရောက်
သောအခါ၊ မယား ပေနိန္နနှင့် သူ၏ သားသမီး အ
၅ ပေါင်း တို့ အား ဝေ မျှ ၏၊– ဟန္န ကို ချစ် သော
ကြောင့်၊ နှစ်ဆသောအဖို့ကိုပေး၏၊ သို့ရာတွင်၊
ထာဝရဘုရားသည်ဟန္နအား၊သားဘွားသောအ
၆ ခွင့်ကိုပေးတော်မမူ၊– ထိုသို့ထာဝရဘုရားသည်
အခွင့်ကိုပေးတော် မမူသောကြောင့်၊ ဟန္နမိတ်

ဆိုးညှဉ်းစောင်း၊ ရန်သူသည်အလွန်နှောင့်ရှက်
၇ ထတ်၏။– နှစ်စဉ်မပြတ် ထာဝရဘုရား၏ အိမ်
တော်သို့ သွားသောအခါ၊ ရန်သူနှောင့်ရှက်သ
ဖြင့်၊ထနသည်အစာမစားနိုင်၊ ငိုလျက်နေတတ်
၈ ၏။–သူ၏ ခင်ပွန်း ဧလကာနက၊ ဟန၊ အဘယ်
ကြောင့် ငိုသနည်း။ အဘယ်ကြောင့်မစားဘဲနေ
သနည်း။ အဘယ်ကြောင့်စိတ်ညှိုးငယ်သနည်း။
သားဆယ်ယောက်ထက်သင်၌ငါသာ၍ ကောင်းသည်
မဟုတ်လောဟု ဆို၏။
၉ ရှိလော မြို့၌ စားသောက် ကြသော နောက်၊
ယဇ်ပုရောဟိတ် ဧလိသည် ထာဝရ ဘုရား၏
၁၀ အိမ်တော်တိုင်နားမှာထိုင်စဉ်၊–ဟနသည်ညှိုး
ငယ်သော စိတ်နှင့် ထ၍၊ မျက်ရည် များစွာ ကျ
လျက်၊ထာဝရဘုရားကိုဆုတောင်းသဉ်ကား၊–
၁၁ အို ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား၊
ကိုယ်တော်၏ ကျွန်မ ကို မေ့လျော့ တော်မမူဘဲ၊
ကိုယ် တော် ကျွန် မ ၏ ဆင်းရဲ ခြင်း ကို ကြည့်ရှု
တောင်းမေ့ သဖြင့်၊ သား ယောက်ျားကို ပေးသ
နား တော် မူလျှင်၊ သူ၏ ဆံ ပင် ရိတ် ခြင်း ကို အ
လျှင်းမပြု။ တသက် လုံး ထာဝရ ဘုရား၏ ကျွန်
ဖြစ်စေခြင်းငှါကျွန်မအပ်ပါမည်ဟု၊ သစ္စာဂတိ
၁၂ ပြုလေ၏။– ဟနသည်ထာဝရဘုရားရှေ့တော်၌
ကြာ မြင့်စွာ ဆု တောင်း စဉ်၊ ဧလိ သည် သူ၏
၁၃ နှုတ်ကို ကြည့် မှတ် လေ၏။– စိတ်နှစ်လုံးနှင့် ဆု
တောင်း၍၊ နှုတ်ခမ်းလှုပ်သော်လည်း၊ စကား
သံ မ ထွက် သော ကြောင့်၊ ယစ်မူးသည်ဟု ဧလိ
၁၄ ထင်လျက်၊– သင်သည် အဘယ်မျှ ကာလ ပတ်
လုံး ယစ်မူးလိမ့်မည်နည်း။ သင်၏ စပျစ်ရည်ကို
၁၅ ပယ် ရှောင် လော့ဟု ဆို ၏။– ဟန ကလည်း၊ မ
ဟုတ်ပါအရှင်၊ ကျွန်မသည်စိတ်ညှိုးငယ်သော
မိန်းမဖြစ်ပါ၏။စပျစ်ရည်ကို မသောက်ပါ၊ သေရည်
သေ ရက်ကို မသောက် ပါ၊ ထာ ဝရ ဘုရား ရှေ့
တော်၌စိတ်နှစ်လုံးကိုသွန်းလောင်းလျက်နေပါ
၁၆ ၏။– ကိုယ်တော်၏ ကျွန်မကို၊ အဓမ္မ မိန်း မဟု၍မ
မှတ် ပါ နှင့်၊ ငြိုငြင် တမ်း စ ရာ အကြောင်း၊ ဝမ်း
နည်း စ ရာ အကြောင်း များ သည် ဖြစ် ၍၊ ယခု
တိုင် ဆောင် လျှောက် နေ ပါ သည်ဟု ပြန် ပြော
၁၇ သော်၊–ဧလိက၊ ငြိမ်ဝပ်စွာသွားလော့၊ ယခုဆု
တောင်း သည် အ တိုင်း၊ ဣ သ ရေ လ အမျိုး၏
ဘုရားသခင် ပေး သနား တော် မူပါ စေ သော ဟု
၁၈ မြွက်ဆို၏။– ဟနကလည်း၊ ကိုယ်တော်၏ကျွန်
မသည် ရှေ့ တော် ၌ မျက်နှာ ရပါစေသော ဟု
လျှောက်ပြီးမှ၊ ခြားနားသော မျက်နှာနှင့်အသွား
၍ အစာစားလေ၏။
၁၉ ထိုသူတို့သည် နံနက်စော စောထ၍၊ ထာဝရ
ဘုရား ရှေ့တော်၌ ကိုးကွယ်ပြီးလျှင်၊ ရာမမြို့မှာ
ရှိသောမိမိတို့အိမ်သို့ပြန်သွားကြ၏။ ထိုအခါဧ
လကာနသည်မယားဟနနှင့်ဆက်ဆံ၍၊ ထာဝ
၂၀ ရဘုရားအောင်းမေ့တော်မူသဖြင့်၊– ဟနသည်
ပဋိသန္ဓေ ယူ၍၊ ကာလ အပိုင်း စေ့သော အခါ
သား ယောက်ျား ကို ဖွားမြင် ပြီး လျှင်၊ထိုသား
ကိုထာဝရဘုရားထံ၌ ဆုတောင်းသောကြောင့်၊
၂၁ ရှမွေလအမည်ဖြင့်မှည့်လေ၏။–ဧလကာနသည်
အိမ်သူအိမ်သားအပေါင်းတို့နှင့်အတူ၊ နှစ်စဉ်
ပြုရသောယဇ်ကိုငှင်၊ သစ္စာဂတိနှင့်ဆိုင်သော
ပူဇော်သကာကိုငှင်၊ထာဝရဘုရားအားပူဇော်
၂၂ ခြင်းငှါတက် သွား သော အခါ၊– ဟနက၊ နို့နှင့်
ကွာပြီးမှ၊ သူငယ်ကို ဆောင် သွားပါမည်။ ထိုအ
ခါသူသည်ထာဝရဘုရားရှေ့တော်သို့ရောက်၍၊
၂၃ အမြဲနေရလိမ့်မည်ဟုဆိုလျှင်၊–ခင်ပွန်းဧလကာ
နက၊ စိတ်ရှိသည်အတိုင်း ပြုလော့။ နို့နှင့်မကွာ
မှီတိုင် ဆောင်နေလော့၊ ထာဝရ ဘုရား၏ ဂတိ
တော်သာ တည် ပါစေသောဟု ဝန်ခံ၍၊မယား
သည် သူငယ်ကို နို့တိုက် လျက်၊ နို့မ ကွာမှီ တိုင်
၂၄ ဆောင်မသွားဘဲနေ၏။–နို့ကွာပြီးမှ၊အသက်သုံး
နှစ်ရှိသောနွားတကောင်၊ မုန့်ညက် တဧဖာ၊ စ
ပျစ် ရည် တ ဘူး နှင့် တ ကွ၊ သူ ငယ် ကို ဆောင်
သွား၍၊ ရှိလောမြို့၌ထာဝရဘုရား၏ အိမ်တော်
သို့ရောက်လေ၏။ထိုအခါသူငယ်သည်အသက်
၂၅ နုသေး၏။– နွားကိုသတ်၍သူငယ်ကိုဧလိထံသို့
၂၆ သွင်း လျက်၊ ဟန က၊ ကျွန် မ ၏ သ ခင်၊– ကိုယ်
တော်အသက်ရှင်သည်အတိုင်း၊ ကျွန်မသည်ယ
မန်တခါ ဤ အရပ်၌ ကိုယ် တော် အနားမှာ ရပ်
၂၇ လျက်ဆုတောင်းသောမိန်းမဖြစ်ပါ၏။–ထိုအခါ ဤ
သူ ငယ်ကို ရမည် အကြောင်း ဆု တောင်း ပါ၏။
တောင်းသည်အတိုင်း၊ ထာဝရဘုရားသည်ပေး
၂၈ သနားတော်မူပြီ။–ထိုကြောင့်၊ ကျွန်မသည်သူကို
ထာဝရဘုရား အား ငှါးပါပြီ၊ သူသည် တသက်
လုံးထာဝရ ဘုရားထံတော်၌ အငှါးခံ၍ နေရပါ
မည်သခင်ဟုလျှောက်ပြီးမှ၊ ထိုအရပ်၌ထာဝရ
ဘုရားကိုကိုးကွယ်ကြ၏။

၂

၁ တဖန် ဟနသည် ပဌနာ စကားကို မြွက်ဆို
သည်ကား၊ ငါ့စိတ် နှစ်လုံးသည် ထာဝရဘုရား

ကို အမှီပြု၍ ရွှင်လန်း လျက်၊ ထာဝရ ဘုရား
ကြောင့် ဦးချို မြင့်လျက် ရှိ၏၊ ကယ်တင်ခြင်း
ကျေးဇူးတော်ကြောင့်ဝမ်းမြောက်၍၊ ရန်သူတို့
၂ အားဝါကြွားသောစကားကို ပြောရ၏၊- ထာဝ
ရဘုရား၊ သန့်ရှင်းတော်မူသကဲ့သို့၊ အဘယ်သူမျှ
မသန့်ရှင်း၊ ကိုယ်တော်မှတပါး၊ အခြားသော
ဘုရားမရှိ၊ ငါတို့ဘုရားသခင်ကဲ့သို့သောခိုလှုံ့စ
၃ ရာမရှိ၊- ကိုယ်ကိုကိုယ် မချီးမြှောက် ကြနှင့်၊ ဝါ
ကြွား စော်ကားသော စကားကို မပြောကြနှင့်၊
အဓမ္မစကားကိုနှုတ်ထဲကမထွက်စေကြနှင့်၊ အ
ကြောင်းမူကား၊ ထာဝရဘုရားသည်သဗ္ဗညုတ
ဘုရား ဖြစ်တော်မူ၏၊ အမှုအရာတို့ကိုညှိညှတ်
၄ တော်မူ၏၊ သူရဲတို့ ကိုင် သော လေး များ ကျိုး
လျက်၊ လဲတတ် သော သူတို့ သည် ခွန် အား နှင့်
၅ ပြည့်စုံလျက် ရှိကြ၏၊- ဝစွာစားသောသူတို့သည်
အစာ စရာကိုရခြင်းငှါ၊ သူ ငှါး လုပ်ရကြပြီ၊ ငတ်
မွတ်သောသူတို့မူကား၊ တဖန်ဝကြပြီ၊ မြုံသော
သူသည် ခုနစ်ကြိမ် တိုင်အောင်ဖွားမြင်ပြီ၊ သား
၆ များသောသူမူကား၊ တဖန် အား လျော့ပြီ၊- ထာ
ဝရဘုရားသည်သေစေသောအခွင့်၊ အသက်ရှင်
စေသော အခွင့်၊ မရဏာနိုင်ငံသို့ နှိမ့်ချသော အ
၇ ခွင့် ထမြောက်စေသော အခွင့်ရှိတော်မူ၏၊- ဆင်း
ရဲစေခြင်းငှါ၎င်း၊ ရတတ်စေခြင်းငှါ၎င်း၊ ထာဝရ
ဘုရားပြု၍၊ နှိမ့်ချသော အခွင့်၊ ချီးမြှောက်သော
၈ အခွင့်ရှိတော်မူ၏၊- ဆင်းရဲသော သူ ကို မြေမှုန့်
ထဲက၎င်း၊ ငတ်မွတ်သော သူကို နောက်ချေးပုံထဲ
က၎င်း ချီးမြှောက်၍၊ မင်းသားတို့နှင့်ထိုင်ရသော
အခွင့်၊ ဘုန်းကြီးသော ပလ္လင်ကို အမွေခံရသော
အခွင့်ကိုပေးတော်မူ၏၊ အကြောင်းမူကား၊ မြေ
ကြီး တိုင်တို့ကို ထာဝရ ဘုရားပိုင်၍၊ ထိုတိုင်တို့
အပေါ်မှာ လောကဓာတ်ကို တည် တော် မူပြီ၊-
၉ မိမိ သန့် ရှင်းသူ တို့ ခြေကို စောင့် မ တော် မူလိမ့်
မည်၊ မတရား သော သူ တို့ သည်၊ မှောင်မိုက် ၌
တိတ်ဆိတ်စွာ နေရကြလိမ့်မည်၊ ကိုယ်အစွမ်း
၁၀ သတ္တိအားဖြင့် အဘယ်သူမျှမနိုင်ရာ၊- ထာဝရ
ဘုရား သည် ရန်သူတို့ကို ချိုးဖဲ့ တော်မူမည်၊ သူ
တို့အပေါ်၌ မိုဃ်းကြောင်းကြမ်းမိုဃ်းခြိမ်းစေ
တော်မူမည်၊ ထာဝရဘုရားသည် မြေကြီးစွန်း
တိုင်အောင်တရားစီရင်သဖြင့်၊ ခန့်ထားတော်မူ
သော ရှင်ဘုရင်ကို ခွန်အားနှင့် ပြည့်စုံစေ၍၊ အ
ထံ တော်၌ ဘိသိတ် ခံ သော သူ ကို ချီး မြှောက်
၁၁ တော်မူမည်ဟု မြွက်ဆို၏၊- ထိုနောက်မှ၊ ဧလ
ကာနသည်ရာမမြို့၌ ရှိသော မိမိအိမ်သို့ သွား၍
သူငယ်သည်ယဇ်ပုရောဟိတ်ဧလိရှေ့တွင်အမှု
တော်ကိုဆောင်ရွက်လေ၏။
၁၂ ဧလိ၏ သားတို့သည် ထာဝရဘုရားကို မသိ
၁၃ အဓမ္မ လူဖြစ်ကြ၏၊- လူများတို့တွင် ယဇ်ပုရော
ဟိတ် ပြု သော ထုံးစံ ဟူမူကား၊ ယဇ်ပူဇော်၍
အမဲသားကို ပြုတ်စဉ်အခါ၊ ယဇ် ပုရောဟိတ်
၏အစေအပါတယောက်သည်လာ၍၊ သုံးချောင်း
၁၄ ရှိသောအမဲချိတ်ကိုကိုင်လျက်၊- အိုးအစရှိသည်
တို့၌ထိုးခပ်၍၊ အမဲချိတ်တွင် ပါသမျှကို ယဇ်ပု
ရောဟိတ်သည် သိမ်းယူတတ်၏၊ ရှိလောမြို့သို့
ရောက် လာ သော ဣသ ရေလ လူအပေါင်း တို့
၁၅ အား ထိုသို့ ပြုကြ၏၊- ဆီဦကို မီး မရှို့မှီ၊ ယဇ်ပု
ရောဟိတ်၏အစေအပါသည်လာ၍၊ ယဇ်ပုရော
ဟိတ် တို့ ကင် စရာ အမဲ သား ကို ပေးပါ၊ ပြုတ်
သောအမဲသားကိုမယူ၊ စိမ်းသော အမဲသားကို
သာ ယူမည်ဟု၊ ယဇ်ပူဇော် သော လူ အား ဆို
၁၆ တတ်၏၊- ထိုသူက၊ ဆီဦကိုအရင်မီးရှို့ပါရစေ၊
နောက်မှ ယူချင်တိုင်း ယူပါလော့ဆိုလျှင်၊ မဟုတ်
ဘူး၊ ယခုပေးရမည်၊ သို့မဟုတ်၊ အနိုင်ယူမည်
၁၇ ဟုပြောဆိုတတ်၏၊- ထိုယဇ်ပုရောဟိတ်ငယ်တို့
သည်၊ ထာဝရ ဘုရား ဝတ် ကို လူ များ ရွံ့စရာပြု
သော ကြောင့်၊ ရှေ့ တော် ၌ အလွန် အပြစ် ကြီး
သောသူဖြစ်ကြ၏။
၁၈ သူငယ် ရှမွေလသည် ပိတ်ချောသင်တိုင်းကို ဝတ်
စည်းလျက်၊ ထာဝရဘုရားရှေ့ ၌ အမှု တော်ကို
၁၉ ဆောင်ရွက်လေ၏၊- နှစ်စဉ် ပြုရသော ယဇ်ကို
ပူဇော်ခြင်းငှါ၊ သူ၏မိဘသည်ရောက်လာသော
အခါ၊ အမိသည် တနှစ် မပြတ် သားအဘို့ အင်္ကျီ
၂၀ ငယ်ကိုချုပ်၍ဆောင်ခဲ့တတ်၏၊- တရံရောအခါ
ဧလိက၊ သင် သည် ထာ ဝရ ဘုရား၌ ငှါး ထား
သောသား၊ အတွက်၊ ဤမိန်းမတွင် အမျိုးအနွယ်ကို
ပေးတော်မူပါစေသောဟု၊ ဧလကာနနှင့်မယား
ကိုကောင်းကြီးပေး၏၊ ထိုသူတို့သည်နေရာအိမ်
၂၁ သို့ပြန်သွားသောနောက်၊- ထာဝရဘုရားသည်
ဟန္နကို အကြည့် အရှု ကြွ တော် မူ သ ဖြင့်၊ သူ
သည်ပဋိသန္ဓေယူ၍၊ သားသုံးယောက်၊ သမီးနှစ်
ယောက် တို့ကို ဖွားမြင် လေ၏၊ သူငယ် ရှမွေလ
သည် ထာ ဝ ရ ဘုရား ရှေ့ တော်၌ ကြီး ပွား လေ
သည်။
၂၂ ဧလိသည် အသက်အရွယ် လွန်သောအခါ၊
သူ၏သားတို့သည် ဣသရေလလူအပေါင်းတို့၌

ရှိသမျှကိုငှဍ်၊ ပရိသတ် စည်းဝေးရာထဲတော်
ထဲ၌၊ နားမှာ စည်းဝေးသော မိန်းမနှင့် မှားယွင်း၊
၂၄ ကြောင်းကိုငှင် ကြားသိလျှင်၊- သင်တို့သည် အ
ထယ်ကြောင့်ဤသို့ပြုကြသနည်း၊သင်တို့ပြုသော
ရစ်မှုတို့ ကို လူ အပေါင်း တို့သည် ပြော၍ ငါ
၂၅ ကြားရ၏။- မကောင်း သူ၊ သားတို့၊ ငါကြား
သော သိတင်း သည် ကောင်းသော သိတင်း မ
ဟုတ်၊ ထာဝရဘုရား၏လူတို့သည်ဖြစ်မှားရမည်
၂၆ အကြောင်း၊သင်တို့ပြုကြသည်တကား၊- လူချင်း
ခဲထောက်ကို တထောက် ဖြစ်မှားလျှင်၊ တရား
သူ ကြီး စစ် ကြောစီရင် ရ၏၊ လူ သည် ထာဝရ
ဘုရားကို ဖြစ်မှားလျှင်၊ သူ့အတွက် အ ထယ်သူ
တောင်းပန်လိမ့်မည်နည်းဟု ဆုံးမသော်လည်း၊
သူတို့သည်အဘ၏စကားကို နားမထောင်ကြ၊ အ
ကြောင်းမူကား၊ ထာဝရ ဘုရားသည် ကွပ်ဖျက်
၂၇ ခြင်းငှါအလိုရှိတော်မူ၏။- သူငယ်ရှမွေလသည်
ကြီးပွား၍၊ ထာဝရဘုရားရှေ့၊ လူတို့ရှေ့၌ မျက်
နှာရသေး၏။
၂၈ ဘုရားသခင် ၏ လူ တယောက် သည် ဧလိထံ
သို့လာ၍၊ထာဝရဘုရားမိန့်တော်မူသည်ကား၊
အဲဂုတ္တုပြည်၊ဖာရောဘုရင်ထံ၌နေရသော၊သင့်
အဘ ၏ အမျိုး အား ငါ ထင် ရှား သည် မ ဟုတ်
၂၉ လော၊- ငါ၏ယဇ်ပလ္လင်ပေါ်မှာပူဇော်ခြင်း၊နံ့
သာ ပေါင်းကို မီး ရှို့ခြင်း၊ ငါ့ရှေ့မှာ သင် တိုင်းကို
ဝတ်ခြင်းအမှုကိုစောင့်ရသော၊ငါ၏ယဇ်ပရော
ဟိတ်ဖြစ်စေခြင်းငှါ၊ ထိုကိုဣသရေလ အမျိုးအ
ပေါင်းတို့အထဲက၊ငါရွေးကောက်သည်မဟုတ်
လော၊ ဣသရေလအမျိုးသားတို့သည်မီးဖြင့်ပြု
သောပူဇော်သကာရှိသမျှတို့ကို၊သင့်အဘ ၏ အ
၃၀ မျိုးအား ငါပေးသည် မဟုတ်လော၊- ငါ့အိမ်၌
ငါစီရင်သော ယဇ်၊ ပူဇော်သကာကို အဘယ်
ကြောင့်ခြေနှင့်ကန်သနည်း။ငါ၏လူဣသရေလ
အမျိုးသားတင်လှူသောပူဇော်သကာရှိသမျှတို့
တွင်၊ အမြတ်ဆုံးသောအရာကို ဝစွာစားစေ၍၊
သင် ၏ သားသို့ကိုငါ့အပေါ်မှာ အဘယ်ကြောင့်
ချီးမြှောက်သနည်း။- ထိုသို့ပြုသောကြောင့်၊ ဣသ
ရေလ အမျိုး၏ ဘုရားသခင် ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင့်အမျိုး၊သင့်အဘ၏အမျိုး
သည်ငါ့ရှေ့မှာအစဉ်သွားလာရလိမ့်မည်ဟု၊ ငါ
ဆိုမိသော်လည်း၊ ယခုထာဝရဘုရားမိန့်တော်
မူသည်ကား၊ထိုဂတိသည်ငါနှင့်ဝေးပါစေ။ ငါ့ကို
ချီးမြှောက်သောသူတို့ကိုငါချီးမြှောက်မည်။ ငါ့ကို
မထီမဲ့မြင်ပြုသောသူတို့သည် ဂုဏ် အသရေပျက်
၃၁ ရကြလိမ့်မည်။- သင် ၏ အမျိုးတွင် အိုသောသူ
တယောက်မျှမရှိစေခြင်းငှါ၊သင်၏လက်ရုံးနှင့်၊
သင့်အဆွေအမျိုး၏ လက်ရုံးကိုငါဖြတ်သောအ
၃၂ ချိန်ကာလရောက်လိမ့်မည်။- ဣသရေလအမျိုး
အားငါပေးသောစည်းစိမ်ရှိရာအိမ်ပေါ်မှာအဘေး
ဥပါတ်ရောက် ကြောင်းကို သင်မြင်ရလိမ့်မည်၊
သင် ၏ အမျိုးတွင် အိုသော သူတယောက် မျှ အ
၃၃ စဉ်မရှိရ၊- ငါ ၏ ယဇ်ပလ္လင်မှငါမပယ်မဖြတ်
သောသင် ၏ အမျိုးသားသည်၊ သင့်မျက်စိ ပျက်
၍စိတ် ကြင်နာမှုရာ ဖြစ်လိမ့်မည်၊ သင်၏ အား
စည် မြေး ထက်တို့ သည်၊ အသက် ပျိုစဉ် ပင်၊
၃၄ သေရကြလိမ့်မည်။- သင်၏ သား ဟောဖနီနှင့်
ဖိနဟတ် နှစ်ယောက်တို့၌ ဖြစ်စေ၍၊ သင့်အား
ငါ ပေးသော ပုပ္ပနိမိတ် ဟူ မူ ကား၊ ထို သူ နှစ်
၃၅ ယောက်တို့သည်တနေ့ချင်းတွင် သေလိမ့်မည်။-
တဖန် ငါ စိတ် နှစ် လုံး အလို သို့ လိုက် ၍ ဆော
ဆောင်သောယဇ်ပရောဟိတ်ကိုငါပေါ်ထွန်းစေ
မည်။ မြဲသောအိမ်ကိုသူ့အဖို့ငါဆောက်ပေးသော
ကြောင့်၊သူသည် ငါ၏ ဘိသိတ်ခံသောသူ့ရှေ့မှာ
၃၆ အစဉ် သွားလာ ရလိမ့်မည်။- သင်၏အမျိုး၌
ကျန်ကြွင်းသော သူတိုင်း သူထံသို့လာ၍၊ ကျွန်
တော် သည် မုန့် အနည်းငယ်ကို စား ရမည် အ
ကြောင်း၊ ယဇ်ပရောဟိတ် အရာနှင့် ဆိုင်သော
အမှုတစုံတခု၌ကျွန်တော်ကိုခန့်ထားပါလော့ဟု၊
ငွေ၊ မုန့်စကို ရလိုသောငှါ၊ ရှိခိုးလျက်တောင်း
ပန်လိမ့်မည်ဟုအမိန့်တော်ကိုပြန်လေ၏။

၃

၁ သူငယ် ရှမွေလ သည်၊ ဧလိရှေ့တွင် ထာဝရ
ဘုရား၏အမှုတော်ကိုဆောင်ရွက်လေ၏၊ထိုကာ
လ၌ ထာဝရ ဘုရား၏ နှုတ် ကပတ်တော် သည်
၂ နည်းပါး၏၊ ထင်ရှားသောရူပါရုံမရှိ။-တရံရော
အခါဧလိသည်မိမိနေရာ၌အိပ်လျက်၊သူ၏မျက်စိ
၃ မှုန်သောကြောင့်၊မမြင်နိုင်သည်ကာလ၊- ဘုရား
သခင်၏ သစ်တာတော်ရှိရာ ထာဝရဘုရား၏အိမ်
တော်၌ မီး ခွက် မငြိမ်းသေးမှီ၊ ရှမွေလသည် လည်း
၄ အိပ်လျက်ရှိသောအခါ၊- ထာဝရဘုရားသည်ရှ
မွေလကိုခေါ်တော်မူ၍၊ ရှမွေလက၊ အကျွန်ုပ်ရှိ
၅ ပါသည်ဟုထူးသဖြင့်၊-ဧလိထံသို့ပြေး၍၊ကိုယ်
တော်ခေါ်သောကြောင့်အကျွန်ုပ်လာပါသည်ဟု
ဆိုလျှင်၊ဧလိက၊ငါမခေါ်၊အိပ်တော့ဟုဆိုသည်
၆ အတိုင်း၊ရှမွေလသွား၍အိပ်ပြန်လေ၏။-တဖန်

ထာဝရဘုရားက၊ ရှမွေလဟု ခေါ်တော်မူလျှင်၊
ရှမွေလသည် ထပြီးလျှင်၊ ဧလိထံသို့ သွား၍၊
ကိုယ်တော် ခေါ်သောကြောင့် အကျွန်ုပ် လာပါ
သည်ဟု ဆိုသော်၊ ဧလိက၊ ငါမခေါ်၊ သွား၊ အိပ်
၇ တော့ဟု ဆို၏။-ရှမွေလသည်ထာဝရဘုရားကို
၈ မသိသေး၊ ဗျာဒိတ် တော် ကို မခံရသေး။- တတိ
ယ အကြိမ် ထာဝရ ဘုရား က၊ ရှမွေလဟု ခေါ်
တော်မူလျှင်၊ ရှမွေလ ထပြီးလျှင်၊ ဧလိ ထံသို့
သွား၍၊ ကိုယ်တော်ခေါ်သောကြောင့်အကျွန်ုပ်
လာပါသည်ဟု ဆိုသော်၊ ထာဝရဘုရား သည်
ထိုသူငယ်ကိုခေါ်တော် မူကြောင်းကို ဧလိသည်
၉ ရိပ်မိလျှင်၊- သင်သွား၍အိပ်ဦးတော့၊ နောက်
တဖန်ခေါ်လျှင်၊ ထိုထာဝရဘုရား၊ အမိန့်ရှိတော်
မူပါ၊ ကိုယ်တော်ကျွန် ကြားပါသည်ဟုလျှောက်
ရမည်အကြောင်း၊ ရှမွေလကို မှာထားသည်အ
တိုင်း၊ ရှမွေလ သွား၍ မိမိနေရာ၌ အိပ်လေ၏။-
၁၀ ထာဝရဘုရားသည်လည်း၊ ရှေ့နည်းတူလာရပ်
လျက်၊ ရှမွေလ၊ ရှမွေလဟု ခေါ်တော်မူလျှင်၊ ရှ
မွေလက၊ ထိုထာဝရဘုရား၊ အမိန့်ရှိတော်မူပါ၊
ကိုယ်တော်ကျွန် ကြားပါသည်ဟု လျှောက်လေ
၁၁ သော်၊ ထာဝရဘုရားက၊ သိတင်းကြားသောသူ
တိုင်း နားနှစ်ဖက်ခါးစေခြင်းငှါ၊ ငါသည် ဣသ
၁၂ ရေလအမျိုး၌တနံ့တခုကိုပြုမည်။-ဧလိအိမ်သား
တို့တဖက်၌ငါပြောသမျှ အတိုင်း၊ ထိုနေ့တွင်ငါ
၁၃ ပြုမည်၊ ပြုစရှိပြီးမှ ထက်စသတ်မည်။- ထိုသူ၏
သားတို့သည်၊ ကိုယ်ယုတ်မာသည်တိုင်အောင်၊
ကိုယ်ပြုသောဒုစရိုက်အပြစ်ကိုသူသိသော်လည်း
ကြပ်တည်း ဆုံးမဆုမှုဘဲ နေသောကြောင့်၊ သူ၏
အိမ်သားတို့၌ ငါသည် အစဉ် အမြဲ ဒဏ်ပေး
၁၄ မည်ဟု၊ ငါပြောပြီ။-ထိုကြောင့် ဧလိ၏ အိမ်သား
တို့အပြစ်သည်၊ ယဇ်နှင့်ပူဇော်သကာအားဖြင့်
မပြေ၊ အစဉ်အမြဲ တည် ရမည်အကြောင်း၊ သူ
တို့ အား ငါကျိန်ဆိုပြီဟု မိန့်တော်မူ၏။
၁၅ ရှမွေလသည် နံနက် တိုင်အောင် အိပ် ပြီးမှ၊
ထာဝရဘုရား၏ အိမ်တော်တံခါးတို့ကိုဖွင့်လေ
၏။ မြင်ရသော ရူပါရုံကိုဧလိအားမကြားမပြော
၁၆ ဝံ့။-ဧလိက၊ ငါ့သားရှမွေလဟုခေါ်လျှင်၊ ရှမွေလ
၁၇ က၊ အကျွန်ုပ်ရှိပါသည်ဟု ထူးလေ၏။- ဧလိက
သည်၊ အဘယ်သို့မိန့်တော်မူသနည်း၊ ငါ့အား
ဖုံးထားပါနှင့်၊ မိန့်တော်မူသမျှ တနံ့တခုကို
အားဖုံးထားလျှင်၊ မိန့်တော်မူသည်အတိုင်း၊
မကာ၊ အဆင့်၌ ပြု တော် မူပါ စေ သော ဟု ဆိုလေ
၁၈ သော်။-ရှမွေလသည်တနံ့တခုကိုမျှဖုံးမထား၊
အလုံးစုံတို့ကို ပြန်ကြား၏။ ဧလိကလည်း၊ ထာ
ဝရဘုရားဖြစ်လျှင်၊ အလိုတော်ရှိသည်အတိုင်း
၁၉ ပြုတော်မူပါစေသော ဟု ဝန်ခံလေ၏။- ရှမွေလ
သည်အစဉ်အတိုင်းကြီး၍၊ ထာဝရဘုရားသည်
သူနှင့်အတူရှိတော်မူသဖြင့်၊ သူ၏စကားတခွန်း
၂၀ မျှပျက်စေခြင်းငှါအခွင့်ပေးတော်မမူ။-သူသည်
ထာဝရဘုရား၏ ပရောဖက် စစ်ဖြစ်ကြောင်းကို၊
ဣသရေလ အမျိုးသားအပေါင်းတို့သည်၊ ဒန်မြို့
၂၁ မှစ၍ ဗေရရှေဘ မြို့ တိုင်အောင် သိကြ၏။- ထာ
ဝရဘုရားသည် ရှိလောမြို့၌ အထပ်ထပ်ထင်ရှား
တော်မူ၍၊ ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
အားဖြင့် ရှမွေလအား ဗျာဒိတ်ပေးတော်မူ၏။ ရှ
မွေလ စကားသည်လည်း၊ ဣသရေလ အမျိုးတ
လောက်လုံးကို နှံ့ပြားလေ၏။

## ၄

၁ တဖန် ဣသရေလ အမျိုးသားတို့သည်ဖိလိတ္တိ
လူတို့ကို တိုက်ခြင်းငှါ ရှိ သွား၍၊ ဧဗနေဇာမြို့
နားမှာတပ်ချလျက်၊ ဖိလိတ္တိလူတို့သည်အာဖက်
၂ မြို့၌တပ်ချလျက်နေကြ၏။-ဖိလိတ္တိလူတို့သည်ဣ
သရေလ အမျိုး ကို စစ် ခင်း ကျင်း၍ တိုက် ကြ
သောအခါ၊ ဣသရေလအမျိုးသည်စစ်ရှုံး၍၊ ရန်
သူထက်တွင်သူရဲလေးထောင်ခန့်မှုသေကြ၏။-
၃ လူများတို့သည် တပ်ထဲသို့ရောက်သောအခါ၊ ဣ
သရေလအမျိုးအသက်ကြီးသူတို့က၊ ယနေ့ထာ
ဝရဘုရားသည်ငါတို့ကို ဖိလိတ္တိ လူတို့ရှေ့မှာအ
ဘယ်ကြောင့် ရှုံးစေတော် မူ သနည်း၊ ထာဝရ
ဘုရား၏ပဋိညဉ်သစ်တာတော်သည်လာ၍၊ ငါ
တို့ကိုရန်သူလက်မှကယ်တင်စေခြင်းငှါ ရှိလော
မြို့မှဆောင်ခဲ့ကြကုန်အံ့ဟုဆိုကြသည်အတိုင်း၊-
၄ လူများတို့သည် ရှိလောမြို့သို့ လူကိုစေလွှတ်၍၊
ခေရုဗိမ်စပ်ကြားမှာနေသော၊ ကောင်းကင်ဗိုလ်
ခြေ အရှင် ထာဝရဘုရား ၏ ပဋိညဉ် သစ်တာ
တော်ကိုဆောင်ခဲ့သဖြင့်၊ ဘုရားသခင်၏ပဋိညဉ်
သစ်တာ တော် နှင့် အတူ၊ ဧလိ၏သားဟောဖနိ
၅ နှင့်ဖိနဟတ်နှစ်ယောက်တို့သည်ပါကြ၏။-ထာ
ဝရဘုရား၏ ပဋိညဉ် သစ်တာတော်သည်တပ်
ထဲသို့ရောက်သောအခါ၊ မြေကြီးအသံမြည်သည်
တိုင်အောင်၊ တပ်သား အပေါင်းတို့သည် ကြွေး
၆ ကြော် ကြ ၏။- ကြွေးကြော်သံကို ဖိလိတ္တိလူတို့
သည် ကြား လျှင်၊ ဟေဗြဲ တပ် ၌ ပြုသော ကြွေး
ကြော် သံ ကြီး ကား၊ အ ဘယ် သို့ နည်း ဟု မေး

လျှက်၊ ထာဝရဘုရား၏ သစ်တာတော်သည်ထို
၇ တပ်ထဲသို့ရောက်ကြောင်းကိုသိကြ၏။-ဖိလိတ္တိ
လူတို့သည် ကြောက်၍၊ ဘုရားသခင်သည်ထော
မြို့တပ်ထဲသို့ ရောက်လေပြီတကား၊ ငါတို့သည်
၈ အမင်္ဂလာရှိကြ၏၊ တခါမျှ ဤသို့ မဖြစ်စဖူး။-ငါ
တို့သည်အမင်္ဂလာရှိကြ၏၊ တန်ခိုးကြီးသောဤ
ဘုရားသခင်၏လက်မှငါတို့ကို အဘယ်သူကယ်
တင်လိမ့်မည်နည်း၊ တော၌ အဲဂုတ္တုလူတို့ကို
ဘေးအပေါင်းနှင့် ဒဏ်ခတ်သောဘုရားကား၊
၉ အခြားမဟုတ်၊ ဤဘုရားပေတည်း။-ဖိုဖိလိတ္တိ
လူတို့၊ ဟေဗြဲလူတို့သည်သင်တို့ထံ၌ကျွန်ခံ
ရသကဲ့သို့၊ သူတို့ထံ၌ငါတို့သည်ကျွန်မခံရမည်
အကြောင်း၊ အားယူ၍ယောကျ်ားပြုကြလော့၊
ယောကျ်ား ပြု၍ တိုက်ကြလော့ဟု ပြောဆိုကြ
၁၀ ၏။- ဖိလိတ္တိလူတို့သည် စစ်တိုက်သဖြင့်၊ ဣသ
ရေလအမျိုးရှုံးပြန်၍၊ လူတိုင်းမိမိနေရာသို့ပြေး
လေ၏၊ ကြီးစွာသော လုပ်ကြံခြင်းဖြစ်၍၊ ဣသ
ရေလ ခြေသည် သူရဲ သုံးသောင်း တို့သည်သေ
၁၁ ကြ၏။-ဘုရားသခင် ၏ သစ်တာတော်သည် ရန်
သူထက်သို့ရောက်၍၊ ဧလိ၏သားဟောဖနိနှင့်ဖိ
နဟတ်နှစ်ယောက်တို့သည်အသက်ဆုံးလေ၏။
၁၂ ဗင်္ယာမိန် အမျိုးသား တယောက် သည်၊ စစ်
တိုက်ရာထဲက ပြေးလာ၍၊ မိမိအဝတ်ကို ဆုတ်
လျှက်၊ မိမိခေါင်းပေါ်မှာမြေမှုန့်ကို တင်လျှက်၊
ထိုနေ့ ရှိုင်းတွင် ရှိလော မြို့သို့ ရောက် လေ၏။-
၁၃ ရောက်သောအခါ၊ ဧလိသည် ထမ်းနား၌ ခုံပေါ်
မှာ ထိုင်၍၊ ဘုရားသခင်၏ သစ်တာတော် အ
တွက် မိတ်နှစ်လုံး တုန်လှုပ်လျှက် စောင့်နေ၏၊
ပြေးသော သူသည် မြို့ထဲသို့ ရောက် ၍ သိတင်း
၁၄ ပြောသဖြင့်၊ တမြို့လုံးအော်ဟစ်ကြ၏၊ အော်
ဟစ်သံကို ဧလိ ကြားသော်၊ ဖုတ်ဖုတ် ကျက်
ကျက်သောအသံကား၊ အဘယ်သို့နည်းဟုမေး
လျှင်၊ ထိုသူသည်အလျင်အမြန်လာ၍၊ ဧလိအား
၁၅ လျှောက်လေ၏။-ထိုအခါဧလိသည်အသက်ကိုး
ဆယ် ရှစ်နှစ် ရှိ၍၊ မျက်စိမမြင်နိုင်အောင်ရှုက်
၁၆ ကြောသေ နှင့် ပြီ။- ပြေးသော သူ က၊ အကျွန်ုပ်
သည်စစ်တိုက်ရာမှရောက်လာသောသူဖြစ်ပါ၏၊
စစ်တိုက်ရာထဲက ယနေ့ အကျွန်ုပ်ပြေး၍လာပါ
၏ဟုလျှောက်လျှင်၊ ဧလိက၊ ငါ့သား၊ အမှုကား၊
၁၇ အဘယ်သို့နည်း ဟု မေးလေသော်၊- တမန်က၊
ဣသရေလအမျိုးသည်ဖိလိတ္တိလူတို့ရှေ့မှာပြေး
၍၊ ကြီးစွာသော လုပ်ကြံခြင်းကို ခံရကြပါပြီ၊
ကိုယ်တော်၏သား၊ ဟောဖနိ နှင့် ဖိနဟတ် နှစ်
ယောက်တို့သည် သေပါပြီ၊ ဘုရားသခင်၏သစ်
တာတော်သည်လည်း၊ ရန်သူထက်သို့ရောက်ပါ
၁၈ ပြီဟုပြန် လျှောက်လေ၏။- ဘုရားသခင်၏ သစ်
တာတော် သိတင်းကို ကြားသော အခါ၊ ဧလိ
သည်တံခါးနားမှာထိုင်သောခုံပေါ်က နောက်သို့
ထန်ကျသဖြင့်၊ လည်ပင်းကျိုး၍ သေလေ၏၊ အ
သက် ကြီး၍၊ ကိုယ် လေး သော သူ ဖြစ် ၏၊ ထို
သူသည်ဣသရေလအမျိုးကို အနှစ်လေးဆယ်
၁၉ အုပ်မိုးသတည်း။-သူ၏ချွေးမဖိနဟတ်၏မယား
သည်ပဋိသန္ဓေအရင့်အမာရှိ၍၊ အမြန်နီးလျှက်၊
ဘုရားသခင် ၏ သစ်တာတော်သည်ရန်သူထက်
သို့ ရောက် ကြောင်း၊ ယောက္ခမ နှင့် ထင်သော
ကြောင်းကို ကြားသော အခါ၊ ကြောက်လန့်း၍၊
၂၀ သားဖွားခြင်းဝေဒနာကို ချက်ချင်းခံရ၏။-သေ
လုသောအခါ၊ အနားမှာ ရှိသော မိန်းမတို့က၊ မစိုး
ရိမ်နှင့်၊ သားယောကျ်ားကို ဖွားမြင်ပြီ ဟု ဆို
သော်လည်း၊ ပြန်မပြော၊ အမှုမထားဘဲ နေ၏။-
၂၁ တဖန်ဘုရားသခင်၏ သစ်တာတော်သည်ရန်သူ
ထက်သို့ရောက်သောကြောင့်၎င်း၊ မိမိယောက္ခမ
နှင့်ထင်အမှုကြောင့်၎င်း၊ ဣသရေလ ဘုန်းအသ
ရေပျောက်ခဲ့ပြီဟုဆိုလျှက်၊ ထိုသူငယ်ကိုဣခဗုဒ်
၂၂ အမည်ဖြင့်မှည့်၍၊-ဣသရေလအမျိုး၏ဘုရား
သခင်သစ်တာတော်သည်ရန်သူထက်သို့ရောက်
သောကြောင့်၊ ဣသရေလဘုန်းအသရေပျောက်
ခဲ့ပြီဟုဆိုလေ၏။

၅

၁ ဖိလိတ္တိလူတို့သည် ဘုရားသခင်၏သစ်တာ
တော်ကိုယူ၍၊ ဧဗနေဇာမြို့မှ အာဇုတ်မြို့သို့
၂ ဆောင်သွားကြ၏။- ဘုရားသခင်၏ သစ်တာ
တော်ကိုဒါဂုန်ကျောင်းထဲသို့သွင်း၍၊ ဒါဂုန်အ
၃ နားမှာထားကြ၏။- အာဇုတ်မြို့သားတို့သည်နံ
နက်စောစောထကြသောအခါ၊ ဒါဂုန်သည်ထာ
ဝရဘုရား၏ သစ်တာတော်ရှေ့၌ မြေပေါ်မှာ
လည်း၍ပြပ်ဝပ်လျှက်ရှိသည်ကိုတွေ့သဖြင့်၊ သူ
၄ ကိုယူ၍၊ သူ၏နေရာ၌တင်ထားပြန်ကြ၏။-တဖန်
နက်ဖန်နံနက်စောစောထကြသောအခါ၊ ဒါဂုန်
သည်ထာဝရဘုရား၏သစ်တာတော်ရှေ့၌ မြေ
ပေါ်မှာလည်း၍ပြပ်ဝပ်လျှက်၊ ခေါင်းနှင့်လက်
ဝါးနှစ်ဖက်ပြတ်၍၊ တံခါးခုံပေါ်မှာ တင်လျှက်၊
၅ ဒါဂုန်၌ကိုယ်တိတိရှိသည်ကိုတွေ့ကြ၏။-ထို
ကြောင့် ဒါဂုန်၏ ယဇ်ပုရောဟိတ် မှစ၍ ဒါဂုန်

ကျောင်းသို့ ဝင်သောသူများတို့သည်၊ အာရုတ်
မြို့၌ရှိသောဒါဂုန်ကျောင်းတံခါးခုံကို ယနေ့တိုင်
အောင်ကျော်နင်းလေ့မရှိကြ။
၆ အာရုတ်မြို့နှင့်မြို့နယ်၌ နေသော သူတို့အပေါ်
မှာ၊ ထာဝရဘုရားသည် လေးသောလက်တော်
နှင့်ဖျက်တော်မူ၏။ မြင်းသရိုက်အနာနှင့်လည်း
၇ ဒါဏ်ခတ်တော်မူ၏။-အာရုတ်မြို့သားတို့သည်
ထိုအမှုကိုမြင်လျှင်၊ ဣသရေလအမျိုး၏ ဘုရား
သခင်သည်၊ ငါတို့နှင့်ငါတို့ဘုရားဒါဂုန် အပေါ်
မှာလေးသောလက်တော်ကို တင် တော်မူသည်
ဖြစ်၍၊ ထိုဘုရားသခင်၏သစ်တာတော်ကိုငါတို့
၈ တွင် မရှိစေရဟုဆိုလျက်၊- လူကိုစေလွှတ်၍၊ဖိ
လိတ္တိမင်း အပေါင်းတို့ကို စုဝေးစေပြီးလျှင်၊ ဣ
သရေလအမျိုး၏ ဘုရားသခင် သစ်တာတော်ကို
အဘယ်သို့ ပြုရပါမည်နည်းဟု မေးကြ၏။ မင်း
များကလည်း၊ ဣသရေလအမျိုး၏ဘုရားသခင်
သစ်တာတော်ကို၊ ဂါသ မြို့သို့ဆောင်သွားစေဟု
၉ ဆိုရင်သည်အတိုင်းဆောင်သွားကြ၏။- ထိုမြို့သို့
ဆောင်သွားသောနောက်၊ ထာဝရဘုရား၏လက်
တော်သည်ထိုမြို့၌ ကြီးစွာသော ဖျက်ဆီးခြင်း
ကိုပြု၍၊ မြို့သူမြို့သား အကြီးအငယ်တို့ကိုဒါဏ်
ခတ်တော်မူသဖြင့်၊ ကိုယ်အတွင်း၌မြင်းသရိုက်
၁၀ အနာကိုခံရကြ၏။- တဖန် ဘုရား သခင်၏ သစ်
တာတော်ကို ဧကြုန်မြို့သို့ပို့လိုက်သဖြင့်၊ ထိုမြို့
သို့ရောက်သောအခါ၊ မြို့သူမြို့သားတို့က၊ ငါတို့
နှင့်ငါတို့လူများကိုသတ်စေခြင်းငှါ၊ ဣသရေလ
အမျိုး၏ဘုရားသခင်သစ်တာတော်ကို ဆောင်ခဲ့
၁၁ ပါသည်တကားဟုဟစ်ကြော်လျက်၊- လူကိုစေ
လွှတ်၍၊ဖိလိတ္တိမင်းအပေါင်းတို့ကိုစုဝေးစေပြီး
လျှင်၊ ဣသရေလအမျိုး၏ဘုရားသခင် သစ်တာ
တော်သည်၊ငါတို့နှင့် ငါတို့ လူများကိုမသတ်စေ
ခြင်းငှါ၊လွှတ်လိုက်ကြကုန်အံ့။မိမိနေရင်းအရပ်
သို့ သွားပါလေစေ ဟု ဆို ကြ၏။ အကြောင်းမူ
ကား၊ဘုရားသခင်သည်အလွန်လေးသော လက်
တော် ကို တင်တော် မူ သဖြင့်၊ တမြို့လုံး သေစေ
၁၂ တတ် သော အနာ ရောဂါ နှံ့ ပြားလေ၏။- သေ
သော နှင့် လွတ်သော်လည်း၊ မြင်းသရိုက်နာဖြင့်
ဒါဏ် ခတ်ခြင်းကိုခံရ၍၊ ထိုမြို့ အော်ဟစ်သော
အသံသည်မိုဃ်းကောင်းကင်သို့တက်လေ၏။

၆

၁ ထာဝရဘုရား၏ သစ်တာတော်သည်ဖိလိတ္တိ
၂ ပြည်၌ခုနစ်လနေပြီးမှ၊-ဖိလိတ္တိလူတို့သည်ယဇ်
ပုရောဟိတ်များ၊ ပရောဖတ် လုပ် သူ များ တို့ကို
ခေါ်၍၊ ထာဝရ ဘုရား၏ သစ်တာ တော်ကို အ
ဘယ်သို့ပြုရပါမည်နည်း၊ သူနေရင်း အရပ်သို့
အဘယ်သို့သော ပူဇော်သက္ကာနှင့် လွှတ်လိုက်
၃ ရပါမည် နည်း ဟု မေးမြန်း ကြ၏။- သူတို့ က
လည်း၊ ဣသရေလအမျိုး၏ဘုရားသခင်သစ်တာ
တော် ကို လွှတ် လိုက်လျှင်၊ ကိုယ် ချည်း မလွှတ်
လိုက်ကြနှင့်၊ ဒုစရိုက် ပူဇော် သက္ကာ ကို ဆက်
ဆက်ပေးလိုက်ရမည်။ သို့ပြုလျှင်၊ ရောဂါငြိမ်း
လိမ့်မည်၊အဘယ်ကြောင့်လက်တော်မရွေ့သေး
၄ သည်ကိုသိကြလိမ့်မည်ဟု ဆိုကြ၏။-အဘယ်
အရာကို ဒုစရိုက် ဖြေရာ ပူဇော် သက္ကာ တို့ပြန်
ပေးလိုက် ရပါ မည် နည်း ဟု မေးလျှင်၊ ဖိလိတ္တိ
မင်းအရေအတွက်အတိုင်း၊ ရွှေမြင်းသရိုက်ပုံငါး
ခုနှင့် ရွှေကြွက် ငါး ကောင်ကို ပေးလိုက် ရမည်။
သင် တို့ နှင့်သင်တို့မင်းများ၌ရောဂါတပါးတည်း
၅ စွဲလျက်ရှိ၏။-ထိုကြောင့်၊ မြင်းသရိုက် ပုံ၊မြေကို
ဖျက်တတ်သော ကြွက်ပုံတို့ကို လုပ်၍၊ ဣသရေ
လအမျိုး၏ဘုရားသခင်ဂုဏ်တော်ကိုချီးမွမ်းရ
ကြမည်။ လက် တော် သည်၊ သင် တို့ နှင့် သင် တို့
ဘုရားအပေါ်၊သင်တို့မြေအပေါ်မှာပေါ့ကောင်း
၆ ပေါ့လိမ့်မည်။- သို့ဖြစ်၍၊ ဧဂုတ္တုရှင်ဘုရင်နှင့်အဲ
ဂုတ္တုလူတို့သည်မိုင်မာသောစိတ်နှလုံးရှိသကဲ့
သို့၊ အဘယ်ကြောင့် မိုင်မာသော စိတ် နှလုံးရှိ
ကြသနည်း။ သူတို့တွင် အထူးသဖြင့် ပြု တော်မူ
သောအခါ၊ သူတို့သည် လွှတ်လိုက်၍၊ ဣသရေ
၇ လလူတို့သည်သွားကြ၏။-ယခုမှာလှည်းသစ်ကို
လုပ်ပြီးမှ၊ထမ်းဘိုးမတင်၊သားငယ်ရှိသောနွားမ
နှစ်ကောင်ကိုလှည်း၌က၍၊နွားသငယ်တို့ကို
၈ သူနေရာသို့ပို့ကြလော့။- ထာဝရဘုရား၏ သစ်
တာ တော် ကို လှည်း ပေါ်မှာ တင် ၍၊ ပြန်ပေး
လိုက်သော ဒုစရိုက်ဖြေရာ ပူဇော်သက္ကာတည်း
ဟူသော၊ ရွှေတန်ဆာ တို့ ကို သစ်တာ၏ဘေးနား
မှာအခြားသော သစ်တာ၌ ထားပြီးလျှင်၊ လွှတ်
၉ လိုက် ၍ သွားပါလေစေ။- သစ်တာတော် သည်
မိမိပြည်သို့ သွားသောလမ်း၊ ဗက်ရှေမက်မြို့သို့
လိုက်လျှင်၊ထိုဘုရားသခင်သည် ဤဘေးကြီးကို
ငါတို့၌ဖြစ်စေပြီ၊ သို့မဟုတ်၊ ဒါဏ်ခတ်တော်မူ
သော့ကြောင့်ငါတို့မခံ၊ အလိုလိုခံရသည်ကိုသိ
၁၀ ရကြမည် ဟု ဆိုရင် သည် အ တိုင်း - လူများ တို့
သည် ပြု သ ဖြင့်၊ သား ငယ်ရှိ သော နွား၊ မ နှစ်
ကောင်ကိုလှည်း၌က၍၊နွားသငယ်တို့ ကိုသူနေ

၁၁ ရာ၌ချုပ်ထားကြ၏။-ထာဝရဘုရား၏သေတ္တာ
တော်နှင့် တကွ၊ ရွှေ ကြွက် များ၊ မြင်းသရိုက်ပုံ
များပါသော သေတ္တာ တော် ကိုလည်း ပေါ်မှာ
၁၂ တင်ကြ၏။- နွားမတို့ သည် ဗက်ရှေမက် လမ်း
သို့တည့်တည့်လိုက်၍၊မြည်တွန်လျက် သွားကြ
၏။ ထက်ျာဘက် လက်ဝဲဘက် သို့ မလွှဲ၊ လမ်းမ
သို့သာလိုက်ကြ၏၊ဖိလိတ္တိမင်းတို့သည်ဗက်ရှေ
၁၃ မက် မြို့ နယ် တိုင် အောင် လိုက် ကြ၏။- ဗက်ရှေ
မက် မြို့ သား တို့ သည် မြို့ချိုင့် ၌ ဂျုံ စပါး ကို ရိတ်
လျက်မျှော်ကြည့်၍၊ သေတ္တာတော်ကိုမြင်သော
၁၄ အခါ၊ဝမ်းမြောက်ကြ၏။-လှည်းသည်ဗက်ရှေ
မက်မြို့သားယောရှု၏ လယ်ကွက်ထဲသို့ဝင်၍၊
ကျောက်ကြီးအနားမှာရပ်နေ၏။ ထိုသူတို့သည်
လှည်း ကို ခွဲ ဖြိုလျှင်၊ နွား မတို့ကို ထာ ဝရ
ဘုရားအားမီးရှို့ရာယဇ်ပြု၍ပူဇော်ကြ၏။
၁၅ ထိုအခါလေဝိသားတို့သည်၊ထာဝရဘုရား၏
သေတ္တာတော်နှင့် ရွှေတန်ဆာပါသော သေတ္တာ
ကိုချ၍၊ ကျောက်ကြီးပေါ်မှာ တင်ထားပြီးလျှင်၊
ဗက်ရှေမက်မြို့သားတို့သည်၊ထိုနေ့ချင်း၌မီး
ရှို့ရာယဇ်မှစ၍၊ယဇ်မျိုးကိုထာဝရဘုရားအား
၁၆ ပူဇော်ကြ၏။-ထိုအမှုကိုဖိလိတ္တိမင်းငါးယောက်
တို့သည် မြင်ပြီးမှ၊ ထိုနေ့ ချင်းတွင် ဧကြုန် မြို့သို့
၁၇ ပြန်သွားကြ၏။- ထာဝရ ဘုရား အား ပြန် ပေး
သော ရာဇဝတ် ဖြေ ရာ ပူဇော် သကာ တည်း ဟူ
သော၊ ရွှေ မြင်း သ ရိုက် ပုံ တို့ ကား၊ အာ ဇုတ် မြို့
တို့တခု၊ ဂါဇမြို့အဖို့တခု၊ အာရှကေလုန် မြို့အဖို့တ
ခု၊ ဂါသ မြို့ အဖို့ တခု၊ ဧကြုန် မြို့ အဖို့ တခု ဖြစ် သ
၁၈ တည်း။-ရွှေကြွက်တို့ကား၊ထာဝရဘုရား၏သေ
တ္တာတော်ကို တင်ထားသော ကျောက်ကြီးတိုင်
အောင်၊ မြို့ရိုးခံသော မြို့ဖြစ်စေ၊ တောရွာဖြစ်စေ၊
ဖိလိတ္တိမင်း ငါးပါး ဆိုင်သမျှသောမြို့ရွာအရေ
အတွက်အတိုင်းဖြစ်သတည်း။ ထိုကျောက်ကား၊
ယနေ့တိုင်အောင် ဗက်ရှေမက်မြို့သား ယောရှု
၏လယ်ကွက်၌ရှိ၏။
၁၉ ဗက်ရှေမက်မြို့သားတို့သည်၊ထာဝရဘုရား၏
သေတ္တာတော်ထဲသို့ကြည့်ရှုမိသောကြောင့်၊လူ
ငါးသောင်းခုနစ်ဆယ်နှင့်လူငါးသောင်းတို့သည်ဒဏ်ခတ်
တော်မူခြင်းကို ခံရကြ၏။ ထိုသို့ ထာဝရဘုရား
သည်ကြီးစွာသောလုပ်ကြံခြင်းအားဖြင့်ဒဏ်
ပေး တော် မူ သော ကြောင့်၊ လူများ တို့ သည် ငို
၂၀ ကြွေးမြည်တမ်းကြ၏။- ဗက်ရှေမက်မြို့သားတို့
က၊ သန့်ရှင်းတော်မူသော ဤဘုရားသခင် ထာ
ဝရဘုရားရှေ့တော်၌၊ အဘယ်သူ ရပ်နေနိုင်အံ့
နည်း။ ငါတို့ အရပ်က၊ အဘယ်သူ ရှိရာသို့ ကြွ
၂၁ သွားတော်မူမည်နည်းဟုဆိုလျက်၊- ကိရိယတ်
ယာရိမ်မြို့ သားတို့ ထံသို့ လူ ကို စေ လွှတ်၍၊ ဖိ
လိတ္တိလူတို့သည် ထာဝရဘုရား၏ သေတ္တာတော်
ကိုပြန်ပို့ကြပြီ၊ သင်တို့လာ၍ဆောင်သွားကြ
ပါတော့ဟုမှာလိုက်ကြ၏။

၇

၁ ကိရိယတ်ယာရိမ်မြို့သား တို့ သည် လာ၍၊
ထာဝရ ဘုရား၏ သေတ္တာတော်ကို ဆောင်သွား
သဖြင့်၊ တောင်ပေါ်မှာ ရှိသော အဘိနဒပ် အိမ်၌
ထား၍၊သေတ္တာတော်ကိုစောင့်စေခြင်းငှါ၊သူ၏
၂ သား ဧလာဇာကို သန့်ရှင်းစေကြ၏။- သေတ္တာ
တော်သည်အနှစ်နှစ်ဆယ်ပတ်လုံးကြာမြင့်စွာ
ကိရိယတ်ယာရိမ်မြို့၌ရှိစဉ်အခါ၊ ဣသရေလ
အမျိုးသားအပေါင်းတို့သည်၊ထာဝရဘုရားကို
အောင်း၍မြည်တမ်းကြ၏။
၃ တစ်နှစ်ရှမွေလက၊ သင်တို့သည် အခြားတပါး
သောဘုရားတည်းဟူသော၊ ဗာလဘုရား၊ အာ
ရှတရက် ဘုရားတို့ကိုပယ်၍၊ ထာဝရ ဘုရားအ
မှုသင်တို့စိတ်နှစ်လုံးကိုဖွင့်ဆင်လျက်၊ ထာဝရ
ဘုရားထံတော်သို့စိတ်နှစ်လုံးအကြွင်းမဲ့ပြန်လာ
သဖြင့်၊ထိုဘုရားကိုသာဝတ်ပြုကြလျှင်၊ဖိလိတ္တိ
လူတို့လက်မှကယ်တင်တော်မူမည်ဟု၊ဣသရေ
လ အမျိုး သား အပေါင်း တို့အား ဆုံးမသည် သ
၄ တိုင်း၊- ဣသရေလ အမျိုး သားတို့သည် ဗာလ
ဘုရား၊ အာရှတရက်ဘုရားတို့ကိုပယ်၍၊ ထာဝ
၅ ရဘုရားကိုသာဝတ်ပြုကြ၏။-ရှမွေလက ဦး။
ဣသရေလ အမျိုးသား အပေါင်းတို့ကို မိဇပါမြို့
၌စုဝေးစေကြလော့။သင်တို့အဖို့ထာဝရဘုရား
၆ ကိုငါဆုတောင်းမည်ဟုမှာခဲ့သည်အတိုင်း၊-လူ
တို့သည်မိဇပါမြို့၌စည်းဝေးသဖြင့်၊ရေကိုခပ်၍
ထာဝရ ဘုရားရှေ့တော်၌ သွန်းလောင်း၊ ခြင်း
အစာ ရှောင်ခြင်း အကျင့် တို့ကို ကျင့် လျက်၊ အ
ကျွန်ုပ်တို့သည် ထာဝရဘုရားကိုပြစ်မှားပါပြီဟု
ဝန်ခံကြ၏။ရှမွေလသည်မိဇပါမြို့၌၊ဣသရေလ
အမျိုးသားတရားမှုတို့ကိုစစ်ကြောစီရင်လေ၏။
၇ ဣသရေလ အမျိုး သား တို့ သည် မိဇပါ မြို့၌
စည်းဝေးကြောင်းကို၊ဖိလိတ္တိလူတို့သည်ကြား
လျှင်၊ ဖိလိတ္တိမင်းတို့သည် ဣသရေလ အမျိုးမှ
ရာသို့ စစ်ချီကြ၏။ ထိုသိတင်းကို ဣသရေလလူ
တို့သည် ကြားလျှင်၊ ဖိလိတ္တိ လူတို့ကို ကြောက်

၈ ၍၊- ရှမွေလအား၊ အကျွန်ုပ်တို့၏ ဘုရားသခင်
ထာဝရဘုရားသည်၊ အကျွန်ုပ် တို့ ကို ဖိလိတ္တိလူ
တို့လက်မှကယ်တင်တော်မူမည်အကြောင်း၊ အ
ကျွန်ုပ်တို့အဖို့အစဉ်မပြတ်ဆုတောင်းပါလော့
၉ ဟုဆိုကြ၏။- ရှမွေလ သည်လည်း၊ နို့စို့ သိုးသ
ငယ်ကိုယူ၍၊ ထာဝရဘုရားအားတကောင်လုံး
မီးရှို့ရာယဇ်ပူဇော်လျက်၊ ဣသရေလအမျိုးအ
ဖို့ဆုတောင်း၍၊ ထာဝရဘုရားနားထောင်တော်
၁၀ မူ၏။- ရှမွေလသည် မီးရှို့ရာယဇ်ကိုပူဇော်စဉ်
အခါ၊ ဖိလိတ္တိလူတို့သည် ဣသရေလ အမျိုးကို
တိုက် ခြင်းငှါ ချဉ်း လာ ကြ၏။ ထာဝရ ဘုရား
သည်လည်း၊ ထိုနေ့၌ဖိလိတ္တိလူတို့အပေါ်မှာပြင်း
စွာမိုဃ်းခြိမ်းစေ၍၊ သူတို့တပ်ကိုဖျက်တော်မူ
၁၁ သဖြင့်၊ ဣသရေလအမျိုးရှေ့မှာရှုံးကြ၏။- ဣသ
ရေလလူတို့သည်မိဇပါမြို့မှထွက်၍၊ ဖိလိတ္တိလူ
တို့ ကို လိုက်ကြ လျက်၊ ဗက်ကာ မြို့ တိုင် အောင်
၁၂ လိုက်ကြ၏။- ထိုအခါရှမွေလသည်ကျောက်ကို
ယူ၍၊ မိဇပါမြို့နှင့်ရှင်မြို့စပ်ကြားမှာထူထောင်
သဖြင့်၊ ထာဝရဘုရားသည် ငါတို့ကိုယခုတိုင်
အောင်မစတော်မူပြီဟုဆိုလျက်၊ ထိုကျောက်ကို
၁၃ ဧဗနေဇာအမည်ဖြင့်မှည့်လေ၏။- ထိုသို့ဖိလိတ္တိ
လူတို့သည်ရှုံးသဖြင့်၊ နောက်တဖန် ဣသရေလ
အမျိုး နေရာ အရပ်သို့ မလာကြ။ ရှမွေ လလက်
ထက် ကာလ ပတ်လုံး၊ ထာဝရ ဘုရား၏ လက်
တော်သည်ဖိလိတ္တိလူတို့ကိုဆီးတားတော်မူ၏။-
၁၄ ဖိလိတ္တိလူတို့သည် သိမ်းယူသော ဣသရေလမြို့
ရွာတို့ကို၊ ဧကြုန် မြို့မှစ၍ ဂါသ မြို့တိုင် အောင်၊
ပြန်ပေးရကြ၏။ မြို့နယ်တို့ကိုလည်း၊ ဣသရေလ
လူ တို့သည် ဖိလိတ္တိလူတို့လက်မှ နှုတ်ယူကြ၏။
ဣသရေလလူနှင့် အာမောရိ လူတို့သည် လည်း
၁၅ စစ်မရှိ၊ အသင့်အတင့်နေကြ၏။- ရှမွေလသည်
တသက်လုံး ဣသရေလ အမျိုးကို အုပ်စိုး လေ
၁၆ ၏။- ဗေသလမြို့၊ ဂိလဂါလမြို့၊ မိဇပါမြို့တို့ကိုနှစ်
တိုင်းလှည့်ပတ်၍၊ အရပ်ရပ်တွင်ဣသရေလအ
မျိုး၌၊ စီရင်ရန် အမှုတို့ကို စစ်ကြော စီရင်လေ့ရှိ
၁၇ ၏။- ပြန်လာသော အခါ၊ မိမိအိမ်ရှိသော ရာမမြို့
သို့ပြန်လာ၍၊ ထိုမြို့မှာလည်း ဣသရေလအမျိုး
၌၊ စီရင်ရန်အမှုတို့ကိုစစ်ကြောစီရင်လျက်၊ ထာ
ဝရ ဘုရား အဖို့ ယဇ်ပလ္လင်ကို တည်လျက်နေ
လေ၏။

၈

၁ ရှမွေလ သည် အသက် ကြီး သော အခါ၊ မိမိ
သားတို့ကို ဣသရေလအမျိုး၌ အုပ်စိုးရသော
၂ အခွင့် နှင့် ခန့် ထား၏။- သားဦး အမည် ကား၊
ယောလ၊ ဒုတိယ သား အမည် ကား၊ အဘိယ
တည်း။ ထိုသူတို့သည် ဗေရရှေဘမြို့၌တရားသူ
၃ ကြီးလုပ်ကြ၏။- သို့ရာတွင်၊ အဘလမ်းသို့မလိုက်၊
ငွေကိုတပ်မက်သောစိတ်နှင့်လွှဲသွား၍၊ တံစိုး
၄ စားလျက် တရားကို ဖျက် ကြ၏။- ထိုအခါ ဣသ
ရေလအမျိုး အသက် ကြီးသူ အပေါင်း တို့သည်
စည်းဝေး၍၊ ရှမွေလရှိရာ အရပ် ရာမမြို့သို့ လာ
၅ ပြီးလျှင်၊- ကိုယ်တော်သည် အသက်ကြီးပါ၏၊
ကိုယ်တော်၏သားတို့သည်ကိုယ်တော်လမ်းသို့
မလိုက်ကြပါ။ လူမျိုးအပေါင်းတို့၏ထုံးစံရှိသည်
အတိုင်း၊ အကျွန်ုပ်တို့ကိုအုပ်စိုးရသောရှင်ဘုရင်
၆ ကိုချီးမြှောက်ပါလော့ဟုလျှောက်ကြ၏။- ထိုသို့
အကျွန်ုပ်တို့ကို အုပ်စိုးရသော ရှင်ဘုရင်ကိုပေး
ပါလော့ဟုလျှောက်သော အမှုကို ရှမွေလသည်
မနှစ်သက်သောကြောင့်၊ ထာဝရဘုရားအားဆု
၇ တောင်း လေ၏။- ထာဝရဘုရား ကလည်း၊ သင့်
အားလူများတို့ပြောဆိုသမျှသော စကားကိုနား
ထောင်လော့။ သူတို့သည်သင့်ကိုသာမပယ်၊ ငါ
သည် သူတို့ကို မအုပ်စိုး စေခြင်းငှါ၊ ငါ့ကိုလည်း
၈ ပယ်ကြပြီ။- သူတို့ကိုအဲဂုတ္တုပြည်မှ ငါဆောင်
ခဲ့သောနေ့မှစ၍၊ ယနေ့ တိုင်အောင် ငါ့ကိုစွန့်၍၊
အခြား တပါးသော ဘုရား တို့ကို ဝတ်ပြု သဖြင့်
ကျင့်မိသမျှသောအကျင့်အတိုင်း၊ သင်၌လည်း
၉ ပြုကြ၏။- ယခု မှာ သူ တို့ စကားကို နား ထောင်
လော့။ သို့ရာတွင်၊ သတိပေး၍၊ သူတို့ကိုအုပ်စိုး
သောရှင်ဘုရင်၏ ထုံးစံကို ပြလော့ဟု မိန့်တော်
မူ၏။

၁၀ ရှမွေလ သည် လည်း၊ ရှင်ဘုရင်ကို တောင်း
သောသူတို့အားထာဝရဘုရားအမိန့်တော်ရှိသ
၁၁ မျှကိုပြန်ပြော၍၊- သင်တို့ကိုအုပ်စိုးသောရှင်ဘု
ရင်၏ထုံးစံဟူမူကား၊ သင်တို့သားများကိုယူ၍၊
မိမိရထားထိန်း၊ မြင်းထိန်းအရာ၌ ခန့်ထား၍၊
အချို့ တို့သည်လည်း၊ သူ၏ရထားရှေ့မှာ ပြေးရ
၁၂ ကြမည်။- လူတထောင်အုပ်၊ တရာအုပ်၊ ငါးဆယ်
အုပ်၊ တဆယ်အုပ်အရာ၌ခန့်ထား၍၊ လယ်လုပ်
ခြင်း၊ စပါးရိတ်ခြင်း၊ စစ်တိုက်တန်ဆာ၊ ရထား
တန် ဆာ ကို လုပ် ခြင်း အမှုများကို စေဖန် လိမ့်
၁၃ မည်။- သင်တို့သမီးများကို လည်း ယူ၍၊ ခဲဖွယ်
စားဖွယ်တို့ကိုပျင်ဆင်စေခြင်းငှါလည်း၊ စားတော်
ကဲ၊ မုန့်သည် ဖြစ်စေ ခြင်းငှါ လည်း ခန့်ထားလိမ့်

၁၃ မည်။-သင်တို့သမီးတို့ကိုထုံးမွှေးနံ့သာဖော်သည်၊ ထမင်း
ချက်သည် အကောင်း ဆုံးသို့ကိုယူ၍၊ မိမိကျွန်တို့
၁၄ အားပေးလိမ့်မည်။- သင်တို့ လယ်၊ စပျစ်ဥယျာဉ်၊ သံလွင်ဥယျာဉ်
ထဲတွင်အကောင်းဆုံးကိုယူ၍၊ သူ၏အရာရှိ၊အမှုထမ်းတို့
၁၅ အား ပေး လိမ့် မည်။- သင်တို့ ကောက်ပဲ၊ စပျစ်သီး၏
ဆယ်ဖို့တဖို့ကိုယူ၍၊ သူ၏အရာရှိ၊အမှုထမ်းတို့
၁၆ အားပေးလိမ့်မည်။-သင်တို့ကျွန်၊ ကျွန်မ၊အ
ကောင်းဆုံးသော လုလင်၊မြည်းတို့ကို ယူ၍၊ သူ၏
၁၇ အမှုကိုလုပ်ကိုင်စေလိမ့်မည်။-သင်တို့သိုးစုဆယ်
ဖို့တဖို့ကိုလည်းယူ၍၊သင်တို့သည်သူ၏ကျွန်ခံရ
၁၈ ကြမည်။-သင်တို့ရွေးယူသောရှင်ဘုရင်ကြောင့်၊
ထိုနေ့၌သင်တို့အော်ဟစ်သော်လည်း၊ ထာဝရ
ဘုရားသည် နားထောင်တော် မမူဟု သတိပေး
၁၉ လေ၏။- သို့သော်လည်း၊ လူများတို့က၊ မထုတ်
၂၀ ပါ။ အုပ်စိုးသော ရှင်ဘုရင်ကို လိုချင် ပါ၏။- အ
ကျွန်ုပ်တို့သည် တပါးအမျိုးသား အပေါင်းတို့
နှင့်တူမည်အကြောင်း၊ အကျွန်ုပ်တို့ကို အုပ်စိုး
သောရှင်ဘုရင်ရှိရမည်၊ အကျွန်ုပ်တို့ရှေ့မှာထွက်
ကြွ၍စစ်ထိုးရမည်ဟု၊ ရှမွေလ၏စကားကိုနား
၂၁ မထောင်ဘဲ ဆိုကြ၏။- ထိုသူ တို့၏ စကား များ
ကိုရှမွေလ သည် ကြား လျှင်၊ ထာဝရဘုရားရှေ့
၂၂ တော်၌ လျှောက် လေ၏။- ထာ ဝရ ဘုရား က
လည်း၊ သူတို့စကားကို နားထောင်၍၊ သူတို့အ
ဖို့ရှင် ဘုရင်ကို ချီးမြှောက် လော့ဟု မိန့် တော်မူ
သမြင့်၊ ရှမွေလက၊ သင်တို့အသီးအသီးနေရာမြို့
ရွာသို့ ပြန်သွား ကြလော့ဟု၊ ဣသရေလ လူတို့
အားပြောဆိုလေ၏။

၉

၁ ဗင်္ယာမိန် အမျိုးသားအာဗိ၊ ဗေခေါရတ်၊ ဇေ
ရော်၊ အဗျာထ တည်း သတ် ၍၊ ကိရှ အမည် ရှိ
သောဗင်္ယာ မိန် အမျိုးသား တယောက် ရှိ၏။ သူ
၂ သည် အစွန်စွန်အား ကြီးသောသူဖြစ်၏။- ထို
သူ၌ရှောလု အမည်ရှိသောသားတယောက်ရှိ၏။
ထိုသား သည် အဆင်း လှ၍ ထူး ဆန်း သော သူ
ဖြစ်၏၊ ဣသရေလ အမျိုး သား တို့တွင်၊ ထိုသူ
ထက်သာ၍အဆင်းလှသောသူတယောက်မျှမ
ရှိ။ သူသည် အခြားသော သူထက်ပခုံး အထက်
၃ မှာအရပ်သာ၍မြင့်၏။-ရှောလုအဖကိရှ၏မြည်းတို့
သည် ပျောက်သောကြောင့်၊ ကိရှက၊ သင်သည်
ငယ်သား တယောက်ကို ခေါ်၍၊ မြည်းတို့ကိုရှာဖို့
သောငှါထသွားလော့ဟု၊မိမိသားရှောလုအား
၄ ဆိုသည် အတိုင်း။- သူတို့သည် ဧဖရိမ် တောင်
အရပ်နှင့် ရှလိရှအရပ် တလျှောက်လုံး၌ ရှာ၍ မ
တွေ့လျှင်၊ ရှာလိမ်အရပ်မှသည် ဗင်္ယာမိန်
၅ အရပ်များတလျှောက်လုံး၌ရှာ၍မတွေ့။- ဇုဖအ
ရပ်သို့ ရောက်သောအခါ ရှောလုက၊ ပြန်ကြစို့။
သို့မဟုတ်၊ အဖသည်မြည်းတို့ကြောင့်မပူမပန်၊ ငါ
တို့ကြောင့်ပူပန်လိမ့်မည်ဟု၊ ငယ်သားကိုပြော
၆ ဆိုလျှင်၊-ငယ်သားက၊ဤမြို့၌အသရေထင်ရှား
သောဘုရားသခင်၏လူတယောက်ရှိ၏။ သူပြော
သမျှသောစကားသည် ကေန်အမှန်ပြည့်စုံတတ်
၏။သူထံသို့သွားကြစို့။ ငါတို့သွားရသောလမ်း
၇ ကိုသူပြကောင်းပြလိမ့်မည်ဟုဆို၏။-ရှောလုက
လည်း၊ သွားလျှင် အဘယ် အရာကို လှူရ မည်
နည်း။ ငါတို့၌ပါသောမုန့်ကုန်ပြီ။ ဘုရားသခင်
၏လူကိုလှူစရာအလှူတစုံတခုမျှမရှိ။ငါတို့၌တစုံ
တခု ရှိ သေး သ လော ဟု၊ ငယ် သား အား မေး
၈ သော်၊- ငယ်သားက၊ ကျွန်တော်လက်၌ ငွေတ
မတ်ရှိပါ၏။ငါတို့ကိုလမ်းပြသည်အတွက်ဘုရား
သခင်၏လူအားပေးပါမည်ဟု၊ ရှောလုအားပြန်
၉ ပြော၏။- ရှေးကာလ၌ ဣသရေလ အမျိုး သား
တို့သည်၊ ဘုရားသခင်ကိုမေးမြန်းခြင်းငှါသွား
မည်ဟုအကြံရှိလျှင်၊မြင်သောသူထံသို့သွားကြ
စို့ဟု ဆိုတတ် ကြ၏။ ပရောဖက် ဟူ၍ ယခု ခေါ်
ဝေါ်သောသူကို၊ရှေးကာလ၌၊မြင်သောသူဟူ၍
၁၀ ခေါ်ဝေါ်ကြသတည်း။-ရှောလုကလည်း၊ကောင်း
ပြီ။ သွား ကြ စို့ဟု ငယ် သား အား ဆို လျှက်၊
၁၁ ဘုရားသခင်၏ လူရှိရာမြို့သို့သွားကြ၏။- မြို့မြင့်
ကုန်းပေါ်သို့ရောက်သောအခါ၊ရေခပ်လာသော
မိန်းမပျိုတို့ကိုတွေ့၍၊ ဤအရပ်၌ မြင်သောသူရှိသ
၁၂ လောဟုမေးသော်၊- ရှိပါ၏။ သင်တို့ရှေ့မှာရှိပါ
၏။ အလျင်အမြန်သွားတော့။ မြင်သောသူသည်
ဤမြို့သို့ယနေ့ လာပြီ။ လူများတို့သည် မြင့်သော
၁၃ အရပ်၌ ယနေ့ ယဇ်ပွဲကို ဆောင်ကြ၏။- သင်
သည် မြင့်သော အရပ် ၌ ယဇ် သား ကို စား ခြင်းငှါ
သောငှါမတက်မှီ၊သင်တို့သည်မြို့ထဲသို့ဝင်လျှင်၊
ချက်ချင်းတွေ့လိမ့်မည်။ သူမရောက်မှီ လူများတို့
သည် မစား တတ်ကြ။ သူသည်ယဇ်ပွဲ၌ ဘုရား
ဝတ်ကိုပြုတတ်၏။ဝတ်ပြုပြီးမှ၊ ခေါ်ဖိတ်သော
သူတို့သည် စားတတ်ကြ၏။ ယခုမှာ သွားလျှင်၊
တွေ့ကြ လိမ့်မည်ဟု ပြန်ပြောသည်နှင့် အညီ၊-
၁၄ သူတို့ သည် မြို့ထဲ သို့ ဝင်၍၊ ရှမွေလ သည် မြင့်
သောအရပ်သို့တက်သွားလျှက်၊ သူတို့ကိုဆီး၍
၁၅ ကြိုလေ၏။- ရှောလု မရောက်မှီ မနေ့၌ ထာဝရ
၁၆ ဘုရားက၊နက်ဖန်နေ့၊- ဤအချိန်၌ဗင်္ယာမိန်ပြည်
မှလူတယောက်ကိုသင်ရှိရာသို့ငါစေလွှတ်မည်။

ထင်သည့် ထိုသူကို၊ ငါ၏လူ ဣသရေလ အမျိုး
၏ မင်း အ ရာ၌ ခန့်ထား၍၊ ဆီလောင်း ခြင်း
ဘိသိတ်ကို ပေးရမည်။ သူသည် ငါ၏လူတို့ကို
ဖိလိတ္တိ လူတို့ထက်မှ ကယ်တင် ရလိမ့်မည်။ ငါ
သည် သူတို့အော် ဟစ်သံကို ကြား၍၊ သူတို့ကို
ကြည့်ရှုသည်ဟု၊ ရှမွေလ နားအပါး၌မိန့်တော်
၁၇ မူနှင့်ပြီ။- ရှမွေလသည် ရှောလုကို မြင်သောအ
ခါ၊ ထာဝရဘုရားက၊ ငါပြောသောသူကိုကြည့်
လော့။ ဤသူသည် ငါ၏လူတို့ကို အုပ်ချုပ်ရလိမ့်
၁၈ မည်ဟု မိန့်တော်မူ၏။- ထိုအခါ ရှောလုသည်ရှ
မွေလရှိရာတံခါးဝသို့ချဉ်းကပ်လျှင်၊ မြင်သော
၁၉ သူ၏အိမ်ကိုပြပါလော့ဟုတောင်းပန်သော်၊-ရှ
မွေလက၊ ငါသည် မြင်သော သူဖြစ်၏။ ရှေ့မှာ
မြင့်သော အရပ်သို့ တက်သွား လော့။ ယနေ့ ငါ
နှင့်အတူ စားရမည်။ နက်ဖန်နေ့ ငါလွှတ်လိုက်
မည်။သင့်စိတ်နှစ်လုံးထဲမှာရှိသမျှကိုလည်းငါ
၂၀ ဖော်ပြမည်။-တမျှန်နေ့ကပျောက်သောသင်၏မြည်း
တို့ကိုမအောင်းမေ့နှင့်။တွေ့လျက်ရှိပြီ။ ဣသရေ
လအမျိုးသည် အဘယ်သူကို အလိုရှိသနည်း။
သင်နှင့်သင်၏အဆွေအမျိုးအပေါင်းကိုအလိုရှိ
သည်မဟုတ်လောဟု၊ရှောလုအားပြောဆို၏။-
၂၁ ရှောလုကလည်း၊ အကျွန်ုပ်သည်ဣသရေလအ
မျိုးတို့တွင်အငယ်ဆုံးသောအမျိုး၊ ဗင်္ယာမိန်အ
မျိုးသားဖြစ်ပါသည်မဟုတ်လော။ အကျွန်ုပ်အ
ဆွေအမျိုးသည်၊ဗင်္ယာမိန်အဆွေအမျိုးအပေါင်း
တို့တွင် အငယ်ဆုံး ဖြစ်ပါသည် မဟုတ်လော။
ကိုယ်တော် သည် အ ကျွန်ုပ် အား၊ အ ထယ်
ကြောင့် ဤသို့ ပြောပါ သနည်း၊ ဟု လျှောက်လေ
၂၂ ၏။- ထိုအခါရှမွေလသည်ရှောလုနှင့်သူ၏ငယ်
သားကိုခေါ်၍၊ အိမ်ခန်းထဲသို့ သွင်း၊ ပြီးလျှင်၊
ခေါ်ဖိတ်သောသူ သုံး ဆယ်တို့တွင် အမြတ်ဆုံး
၂၃ သော အရပ်၌ ထိုင် စေ၏။- ပွဲသူကြီး ကိုလည်း
ခေါ်ပြီးလျှင်၊သင်၌ငါအပ်ပေး၍ အခြားစီထား
စေခြင်းငှါ၊ ငါမှာခဲ့သော အဖို့ကို ယူခဲ့လော့ဟု
၂၄ ဆိုသည်အတိုင်း၊-ပွဲသူကြီးသည် ပခုံးနှင့်ပခုံး
ပေါ်မှာခင်းသောအရာကိုယူ၍၊ ရှောလုရှေ့မှာ
ထားလေ၏။ရှမွေလကလည်း၊ချန်ထားသောအ
ရာကိုယူ၍စားလော့။ခေါ်ဖိတ်သောသူတို့အား
ပြောနှင့်သည်အတိုင်း၊သင့်အဖို့ယခုတိုင်အောင်
သိုထားလျက် ရှိပြီ ဟု ဆို၍၊ ထိုနေ့၌ ရှောလု
သည်ရှမွေလနှင့်အတူ စားသောက်လေ၏။
၂၅ ထိုသူတို့သည်မြင့်သောအရပ်မှ ဆင်း၍မြို့ထဲ
သို့ဝင်ပြီးလျှင်၊ရှမွေလနှင့်ရှောလုတို့သည်အိမ်
၂၆ မိုးပေါ်မှာ စကားပြော လျက် နေကြ၏။- နံနက်
အာရုဏ်တက်၍ နိုးထ သော အခါ၊ ရှမွေလ
ကထလော့။ သင့်ကို ငါလွှတ်လိုက်မည်ဟု ရှော
လုကိုအိမ်မိုးပေါ်မှာခေါ်ပြီးလျှင်ရှောလုသည်
ထ၍၊ ထိုသူနှစ်ယောက်တို့သည် ထွက်သွားကြ
၂၇ ၏။- မြို့စွန်းသို့ ရောက် သောအခါ၊ ရှမွေလ က၊
သင်၏ ငယ်သားကို ရှေ့သို့သွားစေခြင်းငှါ ပြော
လော့ဟုရှောလုအားဆိုသဖြင့်၊ ငယ်သားသည်
ရှေ့သို့ သွား လေ ၏။ ရှမွေလ က လည်း၊ ရပ်နေ
လော့။ ဘုရားသခင်၏အမိန့်တော်ကိုငါပြန်မည်
ဟု ဆိုလျှက်၊

## ၁၀

၁ ဆီဘူးကိုယူ၍၊ရှောလု၏ခေါင်းပေါ်
မှာလောင်းလေ၏။ တဖန်သူကိုနမ်းသဖြင့်၊ထာ
ဝရဘုရားသည်သင့်ကိုအမွေတော်သူမျိုး၏မင်း
အရာ၌ခန့်ထား၍၊ဆီလောင်းခြင်းဘိသိတ်ကို
၂ ပေးတော်မူ၏။- ယနေ့ငါနှင့်ကွာ၍ သွားသော
အခါ၊ဗင်္ယာမိန်ခရိုင်စွန်း၊ဇေလဇာ၌၊ ရာခေလ
သင်းချိုင်းအနားမှာလူနှစ်ယောက်ကို တွေ့လိမ့်
မည်။သူတို့က၊ သင်သွား၍ရှာသောမြည်းတို့ကိုတွေ့
ပြီ။သင်၏အဘသည်မြည်းတို့ကိုအမှုမထား၊သား
အဖို့ အဘယ်သို့ ပြုရ ပါမည်နည်းဟု ဆိုလျှက်၊
၃ မိုးမိပ်ကြောင်းကိုပြောကြလိမ့်မည်။-ထိုအရပ်
မှ လွန်၍၊ တာဗော် လွင် ပြင်သို့ ရောက် လျှင်၊
ဆိတ် သငယ် သုံး ကောင်ကို ဆောင်သော သူတ
ယောက်၊ မုန့် သုံး လုံး ကို ဆောင် သော သူတ
ယောက်၊ စပျစ် ရည် ဘူး ကို ဆောင် သော သူတ
ယောက်တည်းဟူသော၊ ဗေသလမြို့၊ ဘုရားသ
ခင်ထံတော်သို့သွားသော သူသုံးယောက်တို့နှင့်
၄ သင် သည် တွေ့ ကြုံ လိမ့် မည်။- ထိုသူ တို့ သည်
နှုတ် ဆက် ပြီးလျှင်၊ မုန့်နှစ်လုံးကို ပေး၍၊ သင်
၅ သည်သူတို့ထက်မှခံယူရလိမ့်မည်။- ထိုနောက်
မှ ဖိလိတ္တိ တပ် ရှိရာ ဘုရား သခင် ၏ တောင် သို့
ရောက်၍ မြို့သို့ချဉ်းကပ်သောအခါ၊ပရောဖက်
အပေါင်း၊အသင်းသဥ္စတယော၊ပတ်သာ၊ဝှင်တွေ၊
စောင်း ပါလျက်၊ ပရော ဖက်ပြုလျက်၊ မြင့်သော
အရပ်မှ ဆင်း လာကြ သည်ကို တွေ့လိမ့်မည်။-
၆ ထိုအခါထာဝရဘုရား၏ ဝိညာဉ်တော်သည်သင့်
အပေါ်မှာသက်ရောက်သဖြင့်၊ သင်သည်သူတို့
နှင့်အတူ ပရောဖက်ပြု၍၊ ခြားနားသော သူဖြစ်
၇ လိမ့်မည်။- ဤနိမိတ် လက္ခဏာတို့သည် သင်၌

မြင် သော အခါ၊ အထင် ထင် ထည့် အလိုမ်းပြ
ထေ၃။ ဘုရားသခင်သည် ထင်နှင့်အတူရှိတော်
၈ မူ၏။– ထင် သည် ထည်း၊ ငါ့ရှေ့မှာ ဂိလဂါလမြို့
သို့ သွား ရမည်။ ငါသည် ထည်း မီး ရှို့ရာ ထင်၊
မိဿဟာယ ယဇ်ထိုက်ကို ပူဇော်ခြင်းငှါ၊ သင့်ရှိ
ရာသို့လာမည်။ ငါလာ၍၊သင်ပြုရသောအမှုကို
မပြမှီ ထိုင် အောင်၊ ထင်သည် ၇ နေ့ရ မည်ဟု ဆို
၉ ၏။– ရှောလုသည် ရှမွေလထံမှ ထွက်သွားမည်
ဟုလှည့်သောအခါ၊ ခြားနားသော စိတ်နှလုံး
ကို ဘုရားသခင် ပေး တော်မူ၍၊ ထိုနိမိတ် လက္ခ
ဏာအလုံးစုံတို့သည် ထိုနေ့ချင်းတွင်ဖြစ်ထ၏။–
၁၀ တောင်တော်သို့ ရောက်သော အခါ၊ ပရောဖက်
အပေါင်းအသင်းတို့သည်ဆီး၍ကြိုကြစဉ်တွင်၊
ဘုရားသခင်၏ဝိညာဉ်တော်သည် ရှောလုအပေါ်
သို့သက်ရောက်တော်မူသဖြင့်၊သူတို့နှင့်အတူပ
၁၁ ရောဖက် ပြုထ၏။– ရှောလုသည် ပရောဖက်တို့
နှင့် အတူ ပရောဖက် ပြုသည်ကို၊ အထက်ကသိ
ကျွမ်းသော သူတို့သည် မြင်သော အခါ၊ ကိရှ၏
သား၌ အဘယ် သို့ ဖြစ်သ နည်း၊ ရှောလု သည်
ထဉ်းပရောဖက်တို့၌ပါသလောဟု၊ တယောက်
၁၂ ကိုတယောက် မေးမြန်းကြ၏။– ထိုအရပ် သား
တယောက်က၊သူတို့အဖကား၊ အဘယ်သူနည်း
ဟု ဆို၍၊ရှောလုသည်ထည်း၊ ပရောဖက်တို့၌ပါ
သလောဟူသောစကားသည်၊ပုံစကားဖြစ်လေ
၁၃ ၏။– ရှောလု သည် ပရောဖက် ပြုပြီးမှ၊ မြင့်သော
၁၄ အရပ်သို့သွား၏။–ရှောလု၏ဘထွေးက၊သင်တို့
သည် အဘယ်အရပ်သို့ သွားသနည်းဟု၊ ရှော
လုနှင့် ငယ်သားကို မေးလျှင်၊ ရှောလုက၊မြည်းတို့
ကိုရှာရအောင်သွား၏။ မတွေ့သောအခါ၊ ရှမွေ
၁၅ လထံသို့ရောက်သည်ဟုပြန်ပြော၏။–ဘထွေးက
သည်။ ရှမွေလသည်အဘယ်သို့ပြောသနည်း၊
၁၆ ငါအားပြန်ပြောပါဟု တောင်းပန်သော်၊– မြည်းတို့
ကိုတွေ့ပြီဟုရှမွေလသည် အတပ်ပြောကြောင်း
ကိုသာ၊ ရှောလုသည်ဘထွေးအားပြန်ပြော၍၊
ရှမွေလ ပြောသောနိုင်ငံ အမှုအရေးကို ဘထွေး
အားမကြားမပြောဘဲနေ၏။
၁၇ တခန် ရှမွေလသည် လူများ တို့ကို မိဇပါ မြို့၊
ထာဝရဘုရား ထံတော်သို့ ခေါ်၍ စည်းဝေး စေ
၁၈ ပြီးလျှင်၊– ဣသရေလအမျိုး၏ဘုရားသခင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ဣသရေလအ
မျိုးဖြစ်သောသင်တို့ကိုအဲဂုတ္တုပြည်မှငါဆောင်
ခဲ့၍၊အဲဂုတ္တုမင်းအစရှိသော၊ သင်တို့ကိုညှဉ်း
ဆဲ သော ဗိုင်း အပေါင်း ထို လက်မှ ကယ် နှုတ်
၁၉ သော်ထည်း၊– သင်တို့ကို ဒုက္ခ ဆင်းရဲ၊ ထောင်း
ဖါတ်ခြင်းသမျှတို့အထဲက ကယ်တင်သော သင်တို့
၏ ဘု ရားသခင်ကို ယနေ့ သင်တို့ ထည်ပယ်ကြ
ပြီ၊အကျွန်ုပ်တို့အပေါ်မှာရှင်ဘုရင်ခန့်စေခြင်းငှါ
ချီးမြှောက်တော်မူပါဟု လျှောက်ကြပြီ။ သို့ဖြစ်
၍၊ အမျိုးအသီးအသီး၊ အထွေအသီးအသီး အ
လိုက်၊ထာဝရဘုရားရှေ့တော်သို့ချည်းကပ်ကြ
လော့ဟု၊ ဣသရေလ အမျိုးသားတို့အား ဆိုသ
၂၀ ဖြင့်၊–အမျိုး ၁၂ ယ် အပေါင်းတို့ကို ချည်းကပ်
စေ ပြီးမှ၊ ဗင်္ယာမိန် အမျိုးကို မှတ် တော် မူ၏၊–
၂၁ ဗင်္ယာမိန်အထွေအမျိုးအလိုက်ချည်းကပ်စေပြီး
မှ၊မာတရိအထွေအမျိုးကိုငှင်၊ကိရှ၏သားရှော
လုကို ငှင်မှတ် တော်မူသဖြင့်၊ သူကို ရှာ၍ မတွေ့
၂၂ ကြ။–ထိုသူသည်လာရပါမည်လောဟု၊ထာဝရ
ဘုရားအား မေးလျှောက်လျှင်၊ ထာဝရဘုရား
က၊ ဖွည်းများအစရှိသည်တို့၌ပုန်း၍နေသည်
၂၃ ဟုမိန့်တော်မူ၏။–သူတို့သည်ပြေး၍ခေါ်ခဲ့ကြ၏။
ရှောလုသည်လူများတို့တွင်ရပ်သောအခါ၊ ပခုံး
အထက်မှာ အခြားသော သူထက် အရပ်သာ၍
၂၄ မြင့်၏။– ရှမွေလ ကထည်း၊ ထာဝရ ဘုရား ရွေး
ချယ်တော် မူသော သူကို ကြည့်ရှု ကြလော့။ လူ
ခပ် သိမ်း တို့ တွင် သူ နှင့် တူ သော သူ တ စုံ တ
ယောက်မျှမရှိဟု၊ လူအပေါင်းတို့အားပြောဆို
လျှင်၊လူအပေါင်းတို့က၊ရှင်ဘုရင်အသက်တော်
၂၅ ရှိပါစေ ဟု ကျွေးကြော် ကြ၏။– ရှမွေလ သည်
ထည်း၊ မင်းကျင့်တရားကိုလူများတို့အားထော
ပြော၍၊စာ၌ရေးမှတ်သဖြင့်၊ ထာဝရဘုရားရှေ့
တော်၌ ထားပြီးမှ၊ လူ အပေါင်းတို့ကို အသီးအ
၂၆ သီး မိမိတို့ အိမ်သို့ လွှတ်လိုက်လေ၏။– ရှောလု
သည်ထည်း၊ဂိဗာမြို့၊မိမိအိမ်သို့သွား၍၊ဘုရား
သခင်သွေးဆောင်တော်မူသော လူအပေါင်းအ
၂၇ သင်းသည်၊ သူနှင့် အတူ လိုက်သွားကြ၏။– အ
ဓမ္မ လူ တို့က၊ ဤသူ သည် ငါ တို့ကို အဘယ် သို့
ကယ် တင် လိမ့် မည် နည်း ဟု ဆို လျက်၊ ထက်
ဆောင်ကိုမဆက်ဘဲ၊ မထီမဲ့မြင် ပြုသော်ထည်း၊
ရှောလုသည်အမှုမထားဘဲနေ၏။

၁၁

၁ ထိုနောက်မှအမ္မုန်အမျိုးသားနာဟတ်သည်
လာ၍၊ ဂိလဒ်ပြည်ယာဗက်မြို့ အနားမှာတပ်ချ
လျှင်၊ မြို့သား အပေါင်း တို့က၊ အကျွန်ုပ် တို့ နှင့်
မိဿဟာယဖွဲ့တော်မူပါ၊ကိုယ်တော်ထံ၌ကျွန်

ခံပါမည်ဟု၊ နာဟတ်မင်းအား လျှောက်သော်
၂ လည်း၊- အမ္မုန်အမျိုးသားနာဟတ်က၊ သင်တို့
၌ထက်ဝက်သောမျက်စိရှိသမျှကိုဖောက်၍၊ ဣသရေလ
အမျိုး၊ တမျိုးလုံး၌ငါကဲ့ရဲ့ရသောအခွင့်ကိုပေးမှ
၃ ထာမိဿဟာယဖွဲ့မည်ဟုပြန်ပြောသော်၊- ယာ
ဗက်မြို့သား အသက်ကြီးသူတို့က၊ အကျွန်ုပ်တို့
သည် ဣသရေလပြည် တရှောက် လုံးသို့ တမန်
တို့ကို စေလွှတ် ခြင်းငှါ၊ ခုနစ် ရက်မျှ ငံ့လင့်ပါ၊
ထိုအခါကယ်တင်သောသူမပေါ်မရှိလျှင်၊ မင်း
၄ ကြီးထံသို့ ထွက်ပါမည်ဟုဆိုကြ၏၊- တမန်တို့
သည် ရှောလုနေရာ ဂိဗာမြို့သို့လာ၍၊ လူများတို့
အားသိတင်း ကြားပြောသော်၊ လူအပေါင်းတို့
၅ သည် အသံကို လွှင့်၍ ငိုကြွေး ကြ၏၊- ရှောလု
သည် နွားစုနောက်သို့ လိုက်လျက်၊ လယ်လုပ်
ရာမှရောက်လာသောအခါ၊ လူတို့သည်အဘယ်
ကြောင့် ငိုကြွေး ကြသနည်းဟု မေးလျှင်၊ ယာ
၆ ဗက်မြို့သားတို့၏ သိတင်းကိုပြောကြ၏၊- ထိုသိ
တင်းကို ရှောလု ကြားသော အခါ၊ ဘုရားသခင်
၏ဝိညာဉ်တော်သက်ရောက်၍၊ သူသည်ပြင်းစွာ
၇ အမျက်ထွက်လျက်၊- နွား တရှဉ်းကိုယူ၍စုတ်
ဖြတ်ပြီးမှ၊ သံတမန်တို့လက်တွင်ဣသရေလပြည်
တရှောက်လုံးသို့ပေးလိုက်၍၊ ရှောလုနှင့်ရှမွေ
လနောက်သို့ထွက်၍ မလိုက်သောသူ၏ နွားတို့
ကို၊ ဤကဲ့သို့ ပြုမည်ဟု ကျော်ညာ စေသဖြင့်၊ လူ
တို့သည် ထာဝရဘုရားကိုကြောက်၍၊ တညီတ
၈ ညွတ်တည်း ထွက်လာကြ၏၊- ဗေဇက်မြို့၌တပ်
စာရင်း ယူသော အခါ၊ ဣသရေ လ အမျိုး သား
သုံးသိန်း၊ ယုဒအမျိုးသား သုံးသောင်းရှိကြ၏၊-
၉ ဂိလဒ်ပြည် ယာ ဗက် မြို့ မှ လာ သော တမန်တို့
အား၊ နက်ဖန်နေ့၊ နေပူ ချိန် ရောက် သော အခါ၊
ချမ်းသာရမည်အကြောင်းကို၊ မြို့သားတို့အား
ကြားပြောကြလော့ဟု မှာလိုက်သည်အတိုင်း၊
တမန်တို့သည်သွား၍သိတင်းကြားပြောသဖြင့်၊
ယာဗက် မြို့သား တို့သည် ဝမ်းမြောက် ကြ၏၊-
၁၀ အကျွန်ုပ် တို့သည် နက်ဖန်နေ့၌ ကိုယ်တော်ထံ
သို့ထွက်ပါမည်၊ ကိုယ်တော်အလိုရှိသမျှအတိုင်း
ပြု တော် မူပါ ဟု၊ နာ ဟတ် မင်း အား လျှောက်
ကြ၏၊
၁၁ နက်ဖန်နေ့၌ ရှောလုသည်လူတို့ကိုသုံးတပ်ခွဲ
ပြီးမှ၊ နံနက်ယံ အချိန်၌ ရန်သူ အလုံး အရင်းထဲ
သို့ဝင်၍၊ နေပူချိန်တိုင်အောင်အမ္မုန်အမျိုးသား
တို့ကို လုပ်ကြံ သဖြင့်၊ ကျန် ကြွင်းသောသူ၊ တ
ယောက်နှင့် တယောက် ပေါင်း၍ မနေရ သည်
တိုင်အောင်၊ လူအပေါင်း တို့သည် ကွဲပြားလျက်
၁၂ ရှိကြ၏၊- ဣသရေလ လူတို့ က လည်း၊ ရှောလု
သည်ငါတို့ကိုအုပ်စိုးရမည်လောဟု ဆိုမိသော
သူကား၊ အဘယ်သူနည်း၊ ထိုသို့ဆိုမိသောသူတို့
ကိုခေါ်၍ သတ်ကြ ကုန်အံ့ဟု၊ ရှမွေလအား ဆို
၁၃ ကြသော်၊- ရှောလုက၊ လူတယောက်ကိုမျှယနေ့
မသတ်ရ၊ ထာဝရဘုရားသည်ယနေ့ ဣသရေလ
၁၄ အမျိုးကို ကယ်တင်တော် မူပြီဟု ဆို၏၊- ရှမွေ
လကလည်း၊ ဂိလဂါလမြို့သို့သွား၍၊ နိုင်ငံတော်
ကိုပြုပြင် ကြကုန်အံ့ဟု၊ လူများတို့အား ပြောဆို
၁၅ သည်အတိုင်း၊- လူ အပေါင်းတို့သည်ဂိလဂါလ
မြို့သို့သွား၍၊ ထိုမြို့၌ထာဝရဘုရားရှေ့တော်မှာ
ရှောလုကို ရှင်ဘုရင် အရာ၌ ချီးမြှောက် ကြ၏၊
ထိုမြို့၌လည်း၊ ထာဝရဘုရားရှေ့တော်မှာမိဿ
ဟာယယဇ်ကို ပူဇော်သဖြင့်၊ ရှောလုနှင့် ဣသ
ရေလအမျိုးသားအပေါင်းတို့သည်အလွန်ပျော်
မွေ့ခြင်းကိုပြုကြ၏၊

၁၂

၁ ရှမွေလကလည်း၊ သင် တို့ ပြောသ မျှ သော
စကားကိုငါနားထောင်၍၊ သင်တို့အပေါ်မှာရှင်
၂ ဘုရင် ကို ငါ ချီးမြှောက် ထားပြီ၊- ယခု မှာ ရှင်
ဘုရင်သည် သင်တို့ ရှေ့၌ ကြွ နေတော် မူ၏၊ ငါ
သည်အသက်ကြီး၍ဆံပင်ဖြူပြီ၊ ငါ့သားတို့သည်
သင်တို့၌ရှိကြ၏၊ ငါသည်ငယ်သောအရွယ်မှစ
၃ ၍ယနေ့တိုင်အောင်သင်တို့ရှေ့၌သွားပြီ၊- ဤအ
ရပ်၌ယခုငါရှိ၏၊ အဘယ်သူ၏နွားကိုငါယူဘူး
ပြီနည်း၊ အဘယ်သူ၏ မြည်းကို ယူဘူးပြီနည်း၊ အ
ဘယ်သူကို လှည့်စားဘူးပြီနည်း၊ အဘယ် သူ
ကိုညှဉ်းဆဲဘူးပြီနည်း၊ ကိုယ်မျက်စိကို ကွယ်
စေခြင်းငှါ အဘယ်သူလက်မှ တံစိုးကိုခံဘူးပြီ
နည်း၊ ထာဝရ ဘုရားရှေ့၊ ဘိသိက် တော်ကို ခံ
သောသူရှေ့မှာငါ့တဖက်၌သက်သေခံကြလော့၊
သူ့ဥစ္စာကိုငါယူမိလျှင်၊ ပြန်ပေးပါမည်ဟု၊ ဣသ
၄ ရေလလူအပေါင်းတို့အားပြောဆိုသော်၊- သူတို့
က၊ ကိုယ်တော်သည်အကျွန်ုပ်တို့ကိုမလှည့်စား
ပါ၊ မညှဉ်းဆဲပါ၊ အဘယ်သူ၏ဥစ္စာကိုမျှမယူပါ
၅ ဟု ပြောဆိုကြ၏၊- ရှမွေလ ကလည်း၊ သင်တို့
သည် ငါ့လက်၌သူတပါး၏ ဥစ္စာကို ရှာ၍မတွေ့
ကြောင်းကို၊ ထာဝရဘုရားသည်သင်တို့တဖက်
၌ သက်သေဖြစ်တော်မူ၏၊ ဘိသိက်တော်ကိုခံ
သော သူလည်း သက်သေဖြစ်၏ဟု ဆိုလျှင်၊ လူ

၆ ထိုကာ၊ထုတ်ဆောင်ခြင်းကိုဟုဆည်တုဝန်ခံကြ၏။- ထ
ဝန်ရှင်မှုထကာ၊ ထာဝရဘုရားသည်မောရှေနှင့်
အာရုန်ကို ချီး မြှောက်၍၊ သင် တို့ဘိုး ဘေး များ
၇ ကိုအဲဂုတ္တုပြည်မှဆောင်ခဲ့တော်မူ၏။-ယခုတွင်
ထိတ်ထိတ်နေကြလော့။ ထာဝရဘုရားသည်
သင်တို့နှင့်သင်တို့ဘိုးဘေးများ၌၊ တရားသဖြင့်
ပြုတော်မူသော အမှုထိုကို၊ ထာဝရ ဘုရား ရှေ့
တော်မှာ၊ သင်တို့အား ငါဆွေးနွေး ဘော ပြော
၈ မည်။- ယာကုပ်သည် အဲဂုတ္တုပြည်သို့ ရောက်
၍၊သင်တို့ဘိုးဘေးတို့သည်ထာဝရဘုရားအား
အော်ဟစ်သောအခါ၊ မောရှေနှင့်အာရုန်ကိုစေ
လွှတ်သဖြင့်၊ ဘိုး ဘေး တို့ ကို အဲဂုတ္တု ပြည် မှ
၉ နှုတ်ဆောင်၍၊ဤပြည်၌နေရာချတော်မူ၏။- သူ
တို့၏ ဘုရား သခင် ထာဝရ ဘုရား ကို မေ့ လျော့
သော အ ခါ၊ ဟာ ဇော် မြို့ဗိုလ်ချုပ် မင်း သိသရ
လက်သို့၎င်း၊ ဖိလိတ္တိ လူတို့ လက် သို့၎င်း၊ မောဘ
ရှင်ဘုရင်လက်သို့၎င်း ရောက်စေတော်မူသဖြင့်၊
၁၀ ထိုရန်သူ တို့၏ တိုက်ဖျက်ခြင်းကို ခံရကြ၏။- တ
ဖန် သူတို့သည် ထာဝရ ဘုရား အား အော်ဟစ်
လျှက်၊အကျွန်ုပ်တို့သည်ကိုယ်တော်ကိုစွန့်၍၊ဗာ
လဘုရားနှင့် အာရှတရက် ဘုရားတို့ကို ဝတ်ပြု
သဖြင့် ပြစ်မှားပါပြီ။ ယခုတွင်၊ ရန်သူ လက်မှ
ကယ်နှုတ်တော်မူပါ။ ကိုယ်တော်ကို ဝတ်ပြုပါ
၁၁ မည်ဟုလျှောက်ကြသောအခါ၊-ထာဝရဘုရား
သည်ယေရုဗ္ဗာလ၊ဗာရက်၊ယေဖသ၊ရှမွေလတို့
ကိုစေလွှတ်၍၊ ပတ်ဝန်းကျင် ရန်သူတို့ လက်မှ
ကယ်နှုတ်တော်မူသဖြင့်သင်တို့သည်းဘေးလွတ်
၁၂ ရကြ၏။- နောက်တဖန် အမ္မုန် အမျိုးသားရှင်
ဘုရင် နာဟတ် သည် စစ် ချီမည် အကြောင်းကို
သိသောအခါ၊ အကျွန်ုပ်တို့သည်အရင်ကဲ့သို့ မ
ထုတ်၊ ရှင်ဘုရင်သည်အကျွန်ုပ် တို့ကို အုပ်စိုးရ
မည်ဟု၊ သင်တို့၏ ဘုရား သခင် ထာဝရ ဘုရား
သည်ရှင်ဘုရင် လုပ်လျက်ပင်၊ ငါ့အားလျှောက်
၁၃ ထားကြ၏။- ယခုမှာ သင်တို့လို ချင်၍ ရွေးချယ်
သော ရှင်ဘုရင်ကို ကြည့်ရှု ကြလော့။ ထာဝရ
ဘုရားသည်၊သင်တို့အပေါ်မှာရှင်ဘုရင် ဖြစ်စေ
၁၄ ခြင်းငှါ ချီးမြှောက်တော်မူပြီ။-သင်တို့သည်ထာ
ဝရဘုရားကိုကြောက်ရွံ့၍ဝတ်ပြုခြင်းနှင့်တကွ
အာဏာ တော် ကို မဆန်၊ စကား တော် ကို နား
ထောင်လျှင်၊သင်တို့နှင့်သင်တို့ကိုအုပ်စိုးသော
ရှင်ဘုရင်သည်၊ သင်တို့၏ ဘုရားသခင် ထာဝရ
ဘုရားနောက်တော်သို့ ... ပြီ လိုက်ကြလိမ့်မည်။-
၁၅ သို့မဟုတ်၊ ထာဝရဘုရား၏စကားတော်ကိုနား
မထောင်၊ အာဏာ တော်ကို ဆန်လျှင်၊ ထာဝရ
ဘုရား၏ လက် တော် သည် ဘိုး ဘေး တို့ကို ဆီး
တားသကဲ့သို့၊ သင်တို့ကို ဆီးတားတော် မူလိမ့်
၁၆ မည်။- ယခုမှာ သင်တို့ မျက် မှောက် ၌ ထာဝရ
ဘုရား ပြုတော်မူလတ္တံ့သောအမှုကြီးကို ကြည့်ဝတ်
၁၇ ရှုနေ၍ကြည့်ရှုကြလော့။-ယနေ့ဂျုံစပါးရိတ်
ရာ ကာ လ ဖြစ် သည် မ ဟုတ် လော။ သို့သော်
လည်း၊ ထာ ဝရဘုရားကိုငါဆုတောင်း၍မိုဃ်း
ခြိမ်းခြင်းနှင့်တကွမိုဃ်းရွာစေတော်မူမည်။ သို့
ဖြစ်၍၊ သင် တို့သည် ရှင်ဘုရင်ကိုတောင်း သော
အား ဖြင့်၊ ထာဝရ ဘုရားရှေ့တော်၌ ပြစ်မှားမိ
သောအပြစ်သည်ကြီးကြောင်းကိုရိပ်မိသိမြင်ရ
ကြမည်ဟု လူများ တို့ အား ပြော ဆို ပြီးလျှင်၊-
၁၈ ထာဝရဘုရားကိုဆုတောင်း၍၊ ထိုနေ့၌ထာဝရ
ဘုရား သည် မိုဃ်း ခြိမ်း ခြင်း နှင့် တကွ မိုဃ်း
ရွာ စေတော်မူ၍၊ လူအပေါင်းတို့သည် ထာဝရ
ဘုရားနှင့်ရှမွေလကို အလွန်ကြောက် ရွံ့ ကြ၏။-
၁၉ လူအပေါင်းတို့က၊ ကိုယ်တော်၏ ကျွန်တို့သည်
မသေရမည် အကြောင်း၊ ကိုယ်တော်၏ ဘုရား
သခင် ထာ ဝရ ဘုရား အား၊ ကိုယ် တော် ကျွန်
တို့အဖို့ဆုတောင်းတော်မူပါ။အကျွန်ုပ်တို့သည်
ရှင်ဘုရင်ကို တောင်း သော အား ဖြင့်၊ အထက်
အပြစ်များတို့ အပေါ်မှာ ထပ်၍ ဒုစရိုက်ကို ပြုမိ
၂၀ ပါပြီဟု၊ရှမွေလ အား တောင်းပန်ကြ၏။- ရှမွေ
လ က လည်း မစိုး ရိမ် ကြ နှင့်။ ဤ ဒု စရိုက် အ
ပေါင်း ကို ပြု မိ သော် လည်း၊ ထာ ဝရ ဘုရား
နောက်တော်သို့လိုက်ရာမှမလွှဲကြနှင့်။ ထာဝရ
ဘုရား ကို စိတ် နှစ် လုံး အ ကြွင်း မဲ့ ဝတ် ပြု ကြ
၂၁ လော့။- ကျေးဇူးမပြု၊ မကယ်တင်နိုင်၊ အချည်း
နှီး ဖြစ်သော အရာတို့ နောက်သို့ ထမ်း ထွဲ၍ မ
လိုက်ကြနှင့်။ ထိုသို့သောအရာသည်အချည်းနှီး
၂၂ သက်သက်ဖြစ်၏။- ထာဝရ ဘုရားသည် မဟာ
နာမတော်ကို ထောက်၍၊ မိမိလူတို့ကို စွန့်တော်
မမူ။ ထာဝရဘုရားသည်သင်တို့ကိုမိမိလူအရာ
၂၃ ၌ခန့်ထားခြင်းငှါအလိုရှိတော်မူပြီ။-ငါမူကား၊
သင်တို့အဖို့ ဆုမတောင်းဘဲ နေသဖြင့်၊ ထာဝရ
ဘုရားကိုပြစ်မှားခြင်း အမှုသည်၊ ငါနှင့်ဝေးပါ
စေသော၊ ကောင်းမွန်ဖြောင့်မတ်သော လမ်းကို
၂၄ လည်း၊ သင် တို့ အား ငါ ပြသ ဦး မည်။- သို့ရာ
တွင်၊ ထာဝရဘုရားကို ကြောက်ရွံ့၍ သစ္စာနှင့်
တကွ စိတ်နှစ်လုံးအကြွင်းမဲ့ ဝတ်ပြု ကြလော့။

သင်တို့အရှင် အထက်မှာ သောတ် ပြုတော် မူပြီး
၂၅ သည်ကိုအောင်းမေ့ကြလော့၊-သို့မဟုတ်၊သင်
တို့သည်ဒုစရိုက်ကိုပြုမြဲပြုလျှင်၊ရှင်ဘုရင်နှင့်တ
ကွ ဖျက်ဆီးခြင်းသို့ရောက်ရကြလိမ့်မည်ဟု၊ လူ
များတို့အားပြောဆိုလေ၏၊

၁၃

၁၊၂ ရှောလုသည်တနှစ်ကျော်၊နှစ်နှစ်ခန့်သောတ်
ဣသရေလအမျိုး၌ မင်းပြုပြီးမှ၊ ဣသရေလအ
မျိုးသားသုံးထောင်တို့ကို ရွေးကောက်ပြီးလျှင်၊
ကိုယ်တိုင်နေသော မိတ်မတ်မြို့ နှင့် ဗေသေလ
တောင်ပေါ်မှာ လူနှစ်ထောင်၊ ဗင်္ယာမိန်ခရိုင်၊ဂိ
ဗာမြို့၊ ယောနသန် ထံမှာတထောင်ကို ထား၍၊
အခြားသော သူတို့ကိုမိမိတို့ အသီးအသီး နေရာ
၃ အရပ်သို့လွှတ်လိုက်လေ၏၊-ယောနသန်သည်၊
ဂိဗာမြို့၌ရှိသော ဖိလိတ္တိတပ်ကိုလုပ်ကြံသဖြင့်၊
ဖိလိတ္တိ လူတို့သည် သိတင်းကြား ကြ ၏၊ ရှော
လုကလည်း၊ မြစ်တဘက်၌ နေသောသူတို့သည်
ကြား သိစေဟု၊ တပြည်လုံး၌တံပိုး မှုတ်စေ၏၊-
၄ ရှော လုသည် ဖိလိတ္တိတပ် ကို လုပ်ကြံကြောင်း
နှင့်၊ ဖိလိတ္တိ လူ တို့သည် ဣသရေလ လူတို့ကို ရွံ
ရှာကြောင်းကို၊ဣသရေလအမျိုးသားအပေါင်း
တို့ သည် ကြားသိ၍၊ လူများ တို့သည် ရှောလု
၅ နောက်၊ ဂိလဂါလမြို့၌စည်းဝေးကြ၏၊-ဖိလိတ္တိ
လူတို့သည်လည်း၊ ဣသရေလအမျိုး သား တို့
ကိုစစ်တိုက်ခြင်းငှါ၊ ရထားသုံးထောင်နှင့်မြင်း
ခြောက်ထောင်ကိုငှင်၊ သမုဒ္ဒရာသဲလုံးနှင့်အမျှ
ရှိသောလူများကိုငှင်စုဝေးစေပြီးလျှင်၊ စစ်ချီ၍
ဗေသဝင်မြို့အရှေ့၊ မိတ်မတ်မြို့၌ တပ်ချကြ၏၊-
၆ ဣသရေလ အမျိုးသားတို့သည် အလွန် ဆင်းရဲ
ခံရသဖြင့်၊ မိမိတို့ကျည်းမြောင်းလျက် ရှိသည်
ကိုသိမြင်သောအခါ၊ ဥမင်၊ တောတို့၊ ကျောက်
ကြား၊ တောင်ထိပ်၊ မြေတွင်းတို့၌ ပုန်းရှောင်၍
၇ နေကြ၏၊- ယော်ဒန်မြစ်တဘက်၌ နေသောသူအ
ချို့တို့သည် ကူးပြန်၍၊ ဂဒ်ပြည်၊ ဂိလဒ်ပြည်သို့
သွားကြ၏၊ ရှောလု သည် ဂိလဂါလ မြို့၌ နေ
သေး၍၊ လူအပေါင်းတို့သည် သူ့နောက်၌ တုန်
၈ လှုပ်လျက်ရှိကြ၏၊- ရှမွေလမှိန်းချက်သည် အ
တိုင်း၊ ရှောလု သည် ခုနစ်ရက်ငံ့ လင့်၍၊ ရှမွေ
လ သည် ဂိလဂါလ မြို့သို့မရောက်၊ လူများ တို့
၉ သည်ထွက်ပြေးကြ၏၊- ရှောလုကလည်း၊မီးရှို့
ရာယဇ်နှင့် မိဿဟာယ ပူဇော် သက္ကာ တို့ကိုင
ထံသို့ ယူခဲ့ကြဟု ဆိုသဖြင့်၊ မီးရှို့ရာ ယဇ်ကိုပူ
၁၀ ဇော်လေ၏၊- မီးရှို့ရာယဇ် ပူဇော်ခြင်း အမှုပြီး
သည်အဆုံး၌ရှမွေလသည်လာ၏၊ရှောလုသည်
ကောင်းကြီး ပေး၍ ခရီး ဦးကြို ပြုခြင်းငှါ ထွက်
၁၁ သွားလျှင်၊-ရှမွေလက၊သင်သည်အဘယ်သို့ပြု
သနည်းဟုမေးသော်၊ရှောလုက၊လူများတို့သည်ငါ့
အကျွန်ုပ် ထံမှ ထွက်ပြေး ကြောင်း၊ ကိုယ်တော်
သည်ချိန်းချက်သောအချိန်၌ မရောက်ကြောင်း၊
ဖိလိတ္တိ လူတို့သည် မိတ်မတ်မြို့၌စုဝေးကြောင်း
၁၂ များကို သိမြင်သောအခါ၊- ဖိလိတ္တိလူတို့သည်
ငါ့ရှိရာဂိလဂါလ မြို့သို့ စစ်ချီကြလိမ့်မည်၊ ထာ
ဝရဘုရားကို ငါမတောင်းပန်သေးဟု အကျွန်ုပ်
အောင်းမေ့သဖြင့်၊ ကိုယ်ကိုအနိုင်ပြု၍ မီးရှို့ရာ
၁၃ ယဇ်ကို ပူဇော်မိပြီဟုပြန်ပြော၏၊- ရှမွေလက
လည်း၊ သင် သည် မှားပြီ၊ သင်၏ ဘုရား သခင်
ထာဝရဘုရားထားတော်မူသော ပညတ်တရား
ကို မစောင့် ပါတကား၊ စောင့် မိ လျှင်၊ ထာဝရ
ဘု ရားသည်ဣသရေလ အမျိုး၌သင်၏အာဏာ
ကိုထ ရုမှ၍ အစည်အမြဲတည် စေတော်မူပြီ၊-
၁၄ ယခုမူကား၊ သင်၏အာဏာမတည်ရ၊ ထာဝရ
ဘုရားသည်မိတ်နှစ်လုံးတော်နှင့်ညီညွတ်သော
သူကို ရှာတော်မူ၏၊ ထိုသူသည် လူမျိုးတော်အ
ပေါ်မှာ မင်းဖြစ်စေခြင်းငှါ၊ ထာဝရ ဘုရား မိန့်
တော်မူပြီ၊ အကြောင်းမူကား၊ သင်သည်ထာဝ
ရဘုရားမှာထားတော်မူသည်အတိုင်းမကျင့်ဟု
၁၅ ရှောလုအား ဆိုပြီးလျှင်၊- ထ၍ ဂိလ ဂါလ မြို့မှ
ဗင်္ယာမိန်ခရိုင်၊ဂိဗာမြို့သို့သွား၏၊ ရှောလုသည်
မိမိ၌ရှိသောလူတို့ကို ရေတွက်၍၊ ခြောက်ရာခန့်
၁၆ မျှရှိ၏၊-သူနှင့်သားတော်ယောနသန်၊ သူတို့၌ရှိ
သောလူအပေါင်းတို့သည် ဗင်္ယာမိန်ခရိုင်၊ဂိဗာ
မြို့တွင်နေကြ၏၊ ဖိလိတ္တိ လူတို့သည် မိတ်မတ်မြို့
တွင်တပ်ချကြ၏၊
၁၇ လုယူသောတပ်သုံးတပ်တို့သည်၊ဖိလိတ္တိတပ်
မထဲကထွက်၍တတပ်သည် ရှုအာလပြည်ဩဖရ
၁၈ မြို့ထမ်းသို့လိုက်၏၊ တတပ်သည်ဗေသောရုန်
မြို့ထမ်းသို့ လိုက်၏၊ တတပ် သည် တော ထက်
မှာ ဇေဘိုင် ချိုင့်ကို ရှုတ် မှာ ရှိသော ပြည် နှမ်း
၁၉ ထမ်းသို့လိုက်၏၊-ဖိလိတ္တိလူတို့က၊ဟေဗြဲလူတို့
သည် ထားလှံတို့ကို မလုပ်စေနှင့် ဟုဆိုရင် မြို့ရှိ
သောကြောင့်၊ ဣသရေလ ပြည် တရှောက် လုံး၌
၂၀ ထွင်ပန်းပဲသမားတယောက်မျှမရှိ၊- ဣသရေလလူအ
ပေါင်း တို့သည် ထွန်သွား၊ ပေါက်တူး၊ ပုဆိန်၊
တူးရွင်းကို ထက်စေခြင်းငှါ၊ ဖိလိတ္တိလူတို့ရှိရာ

၂၀ သို့သွားရကြ၏။-ရှေ့ဓက်တဖန်ထွန်သွား၊ပေါက်
တူး၊သုံး ခွခက်ရင်း၊ပုဆိန်၊ ထိုးတံရှွန်တုံးလျှက်
၂၂ ရှိကြ၏။- သို့ဖြစ်၍၊ စစ်တိုက်ရာကာလ ရှောလု
နှင့်သားတော် ယောနသန်မှတပါး၊ အခြားသော လူ
၌မျှထားလှံမရှိ။
၂၃ တဖန် ဖိလိတ္တိ တပ်သား တို့သည် မိတ် မတ်မြို့
လမ်းဝသို့ထွက်၍နေကြစဉ်တွင်၊

၁၄

၁ တနေ့သ၌
ရှောလု၏သား ယောနသန်သည် ခမည်းတော်
ထံ၌အခွင့်မပန်ဘဲ၊ လက်နက်ဆောင်လုလင်ကို
ခေါ်၍၊ တဖက်၌နေသော ဖိလိတ္တိ တပ် သို့ သွား
၂ ကြ ကုန် အံ့ဟု ဆို လေ၏။-ရှောလု သည် ဂိဗာ
မြို့စွန်း၊ မိဂြုန် ရွာ၊ ရိဗ္ဗုန် ကျောက်ဆောင် နား
မှာ နေ၍၊ အထံ တော်၌ လူ ခြောက် ရာ ခန့် မျှ ရှိ
၃ ၏။-သင်တိုင်းဝတ်၍၊ရှိလောမြို့၌ထာဝရဘုရား
၏ ယဇ်ပုရောဟိတ် ဖြစ်သော သူ၊ ဧလိနှင့် ဖိန
ဟတ် တို့မှ ဆင်း သက်သော၊ ဣခဗုဒ်၏ အစ်ကို
အဟိတုပ်၏သား အဟိယ ထည်း ရှိ၏၊ ယောန
၄ သန် သွားကြောင်း ကို လူများ မသိကြ။- ယော
နသန်သည်ဖိလိတ္တိတပ်သို့သွားစမ်းသောလမ်း
ကြားမှာ၊ တ ဖက် တ ချက်၌ ကျောက် ငူ ရှိ ၏၊
ကျောက်ငူ တခုသည် ဗောဇက်၊ တခုသည်သေ
၅ နေအမည်ရှိ၏။-တခုကား၊မြောက်ဘက်၌မိတ်
မတ် မြို့သို့ရှင်၊ တခုကား၊ တောင်ဘက် ၌ ဂိဗာ
၆ မြို့သို့ရှင် မျက်နှာပြုသတည်း။- ယောနသန်က၊
အရေဖျား လှီးခြင်းကို မခံသော ထိုတပ်သားတို့
ဆီသို့ သွားကြ ကုန်အံ့။ ထာဝရ ဘုရားသည် ငါ
တို့ အမှု ကို စောင့် ကောင်း စောင့် တော် မူ လိမ့်
မည်။ လူများသော်၎င်း၊ နည်းသော်၎င်း၊ထာဝရ
ဘုရားကယ်တင်တော်မူခြင်းကို အဆီးအတား
မရှိနိုင်ဟု၊ လက်နက်ဆောင် လုလင်အား ပြော
၇ ဆိုလျှင်၊- လုလင်က၊စိတ်တော်ရှိသည်အတိုင်း
ပြုပါ၊ လှည့်သွားပါ။အလိုတော်ရှိသည်အတိုင်း
၈ ကျွန်တော်လိုက်ပါမည်ဟုပြန်ပြောသော်၊-ယော
နသန်က၊ ထိုလူတို့ဆီသို့ သွား၍ ကိုယ်ကိုပြကြ
၉ ကုန်အံ့။- သူတို့ကနေကြ၊ ငါတို့လာမည်ဟုဆို
၁၀ လျှင်၊ သူတို့ဆီသို့မသွားဘဲ နေကြမည်။- သို့မ
ဟုတ်၊လာကြဟုဆိုလျှင်သွားကြမည်၊ ထာဝရ
ဘုရားသည် သူတို့ကိုငါတို့လက်သို့အပ်တော်မူ
၏။ထိုသို့သောပုပ္ပနိမိတ်ရှိရ၏ဟုဆိုသည်နှင့်အ
၁၁ ညီ၊- နှစ်ယောက်တို့သည် ဖိလိတ္တိတပ်သားတို့
အား ကိုယ်ကို ပြသောအခါ၊ ဖိလိတ္တိ လူတို့က၊
ဟေဗြဲလူတို့သည်ပုန်းရှောင်ရာတွင်းထဲကထွက်
၁၂ လာပါသည်တကားဟုဆိုလျှက်၊- တပ်သားတို့
က၊လာကြ။ တစုံတခုကိုပြမည်ဟု၊ ယောနသန်
နှင့်လက်နက်ဆောင်လုလင်အားဆိုလျှင်၊ယော
နသန်က၊နောက်သို့လိုက်လော့။ထာဝရဘုရား
သည် သူတို့ကို ဣသရေလ လူတို့လက်သို့ အပ်
၁၃ တော် မူ ပြီဟု၊ လုလင် အား ဆို သဖြင့်၊- လေး
ဘက် တွားလျှက်တက်၍၊လုလင်လည်းလိုက်၏။
ယောနသန် ရှေ့မှာ ဖိလိတ္တိလူတို့သည်လဲ၍၊ လု
လင်သည် လုသခင် နောက်မှာ လုပ်ကြလေ၏။-
၁၄ ယောနသန် နှင့် လုလင် ပြုသော ပဌမ လုပ် ကြံ
ခြင်း အားဖြင့်၊ နွားတရှည်ထွန် နိုင်သော မြေ
ကွက် အတွင်းတွင်၊ လူ နှစ်ဆယ်ခန့်မျှ သေ ကြ
၁၅ ၏။- စစ်သူရဲ များ၊လယ်လုပ်သူများ၊ အခြားသူ
များ အပေါင်း တို့သည် တပ်သား များ၊ လု ယူ
သော သူများနှင့်တကွ တုန်လှုပ်ကြ၍၊ မြေကြီး
ထည်းလှုပ်သဖြင့်၊ အလွန်ကြီးသော တုန်လှုပ်
ခြင်းရှိ၏။
၁၆ ဗင်္ယာမိန်ခရိုင်ဂိဗာမြို့၌ရှောလု၏ ကင်းစောင့်
တို့သည်ကြည့်ရှုသောအခါ၊ဖိလိတ္တိလူအလုံးအ
ရင်းသည် လျော့၍၊ တ ယောက်ကို တယောက်
၁၇ ထိုးရိုက်လျှက်သွားကြ၏။-ရှောလုကလည်း၊အ
ဘယ်သူထွက်သွားသည်ကိုသိခြင်းငှါ၊လူများ
ကို ရေတွက်ကြလော့ဟု၊ အထံတော်၌ ရှိသော
သူတို့အားစီရင်သည်အတိုင်းရေတွက်၍၊ယော
၁၈ နသန်နှင့်သူ၏လက်နက်ဆောင်လုလင်မရှိ။- ထို
ကာလအခါဘုရားသခင်၏ သစ်တာ တော်သည်
ဣသရေလ အမျိုးသားတို့၌ရှိသည်ဖြစ်၍၊ ရှော
လုက၊ ဘုရားသခင်၏ သစ်တာ တော်ကို ယူခဲ့ပါ
၁၉ ဟု၊ အဟိယအား ဆို၏။- ရှောလုသည် ယဇ်ပ
ရောဟိတ်နှင့်စကားပြောစဉ်တွင်၊ဖိလိတ္တိ တပ်
၌ ဟုတ်ဟုတ် ကျက်ကျက် သော အသံ တိုးပွား
သောကြောင့်၊ရှောလုက၊နေဦးတော့ဟု၊ယဇ်ပ
၂၀ ရောဟိတ်အားဆိုသဖြင့်၊-မိမိနှင့်လူအပေါင်းတို့
သည်၊တယောက်ကိုတယောက် နှိုးဆော်လျှက်၊
စစ်ချီ၍ ရောက်သော အခါ၊ ဖိလိတ္တိ လူတို့သည်
တ ယောက်ကို တယောက် ခုတ် သဖြင့်၊ အလွန်
၂၁ တပ်ပျက်လေ၏။-အထက်ကာလ၌ဖိလိတ္တိလူတို့
ဘက်မှာနေ၍ အရပ်ရပ်တို့က တပ်သို့ လိုက်လာ
သောဟေဗြဲလူတို့သည်လည်း၊ရှောလုနှင့်ယော
နသန်၌ ပါသော ဣသရေလ လူတို့ ဘက်သို့ ဝင်

၂၂ ကြ၏။- ဧဖရိမ်တောင်၌ ဝှန်းရှောင်၍နေသော ဣသရေလလူအပေါင်းတို့သည်လည်း၊ ဖိလိတ္တိလူ ပြေးကြောင်းကို ကြားသောအခါ၊ စစ်ချီ၍ကြပ်
၂၃ ကြပ်လိုက်ကြ၏။- ထိုသို့ထာဝရဘုရားသည် ဣသရေလအမျိုးကို ထိုနေ့၌ ကယ်တင်တော်မူ၍ စစ်မှုသည်ဗေသဝင်မြို့သို့လွန်သွားလေ၏။
၂၄ ထိုနေ့၌ဣသရေလလူတို့သည် ဆင်းရဲခံရကြ၏။ အကြောင်းမူကား၊ ရှောလုက၊ ငါသည်ငါ့ရန်သူတို့၌ ငါ့စိတ်ပြေမည်အကြောင်း၊ ညဦးမျှိန်မရောက်မှီ အစာစားသောသူတိုင်း ကျိန်ဆဲခံစေ ဟု၊ လူတို့အား အကျိန်ပေးသောကြောင့်၊ အ
၂၅ ဘယ်သူမျှ အစာမစားရ။- လူအပေါင်းတို့သည် မြေပေါ်၌ပျားရည်ရှိရာတောသို့ရောက်သဖြင့်၊-
၂၆ တောထဲသို့ဝင်သောအခါပျားရည်စက်စက်ကျလျက်ရှိသော်လည်း၊ အကျိန်တော်ကိုကြောက်သောကြောင့်၊ အဘယ်သူမျှမိမိလက်ကိုမိမိပစပ်
၂၇ ၌မထည့်။- သို့ရာတွင်၊ ခမည်းတော်သည်လူများတို့အား အကျိန်ပေးသည်ကိုယောနသန်မကြားသောကြောင့်၊ မိမိကိုင်သောလှံတံဖျားကိုပျားလပို့၌နှစ်၍ မိမိလက်နှင့်ယူစားသဖြင့်၊ မျက်စိ
၂၈ ကြည်လင်လေ၏။- ခမည်းတော်က၊ ယနေ့အစာစားသောသူတိုင်းကျိန်ဆဲခံစေဟု၊ လူများတို့အားကြပ်ကြပ်အကျိန်ပေးတော်မူပြီဟု၊ လူတယောက်ကြားလျှောက်၏။ လူတို့သည်လည်း
၂၉ မောလျက်နေကြ၏။- ယောနသန်ကလည်း၊ ငါ့အဘသည်ပြည်သားတို့ကို နှောင့်ရှက်ပေပြီ။ ဤပျားရည်အနည်းငယ်ကိုငါစားသောကြောင့်၊
၃၀ ငါ့မျက်စိကြည်လင်သည်ကို ကြည့်ပါတော့။- လူများတို့သည်ယနေ့တွေ့မိသောရန်သူ၏ဥစ္စာကို စားချင်တိုင်းစားလျှင်၊ အဘယ်မျှလောက်အကျိုးကြီးလိမ့်မည်တကား။ ဖိလိတ္တိလူတို့ကိုသာ၍လုပ်ကြံကြလိမ့်မည်တကားဟုဆိုလေ၏။
၃၁ ထိုနေ့၌ ဖိလိတ္တိလူတို့ကို မိတ်မပ်မြို့မှအာဇလုန်မြို့တိုင်အောင်လုပ်ကြံကြ၏။ ဣသရေလလူ
၃၂ တို့သည်အလွန်ပင်ပန်းသဖြင့်၊-ရန်သူ၏ဥစ္စာကိုလုယူ၍၊ သိုး၊ နွား၊ နွားသငယ်တို့ကိုမြေပေါ်မှာ
၃၃ သတ်ပြီးလျှင်၊ အသွေးနှင့်တကွစားကြ၏။- ထိုထိုလူများတို့သည်အသွေးနှင့်တကွစား၍၊ ထာဝရဘုရားကို ပြစ်မှားသည်ဟု၊ ရှောလုအားကြားလျှောက်လျှင်၊ သင်တို့သည်သစ္စာဖောက်ကြပြီ၊ ကြီးစွာသောကျောက်ကိုငါ့ထံသို့ယနေ့လှိမ့်
၃၄ ခဲ့။- လူများတို့တွင် အရပ်ရပ်သွား၍၊ လူအသီးအသီး မိမိတို့ သိုးနွားကို ဤအရပ်သို့ ယူခဲ့ ပြီးလျှင်၊ ဤအရပ်၌သတ်စားကြစေ။ အသွေးနှင့်တကွစား၍ ထာဝရဘုရားကို မပြစ်မှားစေနှင့်ဟုမိန့်တော်မူသည် အတိုင်း၊ လူများတို့သည် အသီးအသီး မိမိတို့ သိုးနွားကို၊ ထိုညဉ့်၌ ယူခဲ့၍
၃၅ ထိုအရပ်၌သတ်ကြ၏။-ရှောလုသည်လည်းထာဝရဘုရား အဖို့ ယဇ်ပလ္လင်ကို တည်လေ၏။ ထိုပလ္လင်ကား၊ ထာဝရဘုရားအဖို့တည်သောပဌမ
၃၆ ပလ္လင်ဖြစ်သတည်း။- တဖန်ရှောလုက၊ ညဉ့်အခါ ငါတို့သည် ဖိလိတ္တိလူတို့ကို လိုက်၍၊ တယောက်ကိုမျှ မကျန်ကြွင်းစေဘဲ၊ မိုဃ်းလင်းသည်တိုင်အောင်ဖျက်ဆီးကြကုန်အံ့ဟုမိန့်ရင်း၍၊ လူများတို့က၊ စိတ်တော်ရှိသည်အတိုင်းပြုတော်မူပါဟု ဝန်ခံကြသော်၊ ယဇ်ပုရောဟိတ်က၊ ဘုရားသခင်အထံတော်သို့ချဉ်းကပ်ကြကုန်အံ့
၃၇ ဟုဆိုလေ၏။- ရှောလုကလည်း၊ အကျွန်ုပ်သည် ဖိလိတ္တိလူတို့ကိုလိုက်ရပါမည်လော။ သူတို့ကိုဣသရေလလူတို့လက်သို့ အပ်တော်မူမည်လောဟု၊ ဘုရားသခင်ထံ၌ မေးမြန်းသော်လည်း၊ ထိုနေ့
၃၈ တွင်ပြန်တော်မမူ။- ရှောလုကလည်း၊ လူထိုတွင်အရာရှိအပေါင်းတို့၊ ယနေ့အဘယ်သူပြစ်မှားမိသည်ကို သိမြင်အံ့သောငှါ ချဉ်း၍ လာကြ
၃၉ လော့။- ဣသရေလအမျိုးကို ကယ်တင်သော ထာဝရဘုရား အသက်ရှင်တော်မူသည်အတိုင်း၊ ငါ့သားယောနသန်ဖြစ်သော်လည်း၊ ဆက်ဆက်သေရမည်ဟု ဆိုသော်၊ အဘယ်သူမျှပြန်၍မ
၄၀ လျှောက်။- ရှောလုကလည်း၊ သင်တို့သည်တဖက်၊ ငါနှင့်ငါ့သားယောနသန်သည် တဖက်နေရကြမည်ဟုဆိုလျှင်၊ လူများတို့က၊ စိတ်တော်ရှိသည်အတိုင်းပြုတော်မူပါဟုလျှောက်ကြသော်၊-
၄၁ ရှောလုက၊ ဖြောင့်မတ်စွာစီရင်တော်မူပါဟု၊ ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရဘုရားအား ဆုတောင်းသဖြင့်၊ လူများတို့သည် လွတ်ကြ၍၊ ရှောလုနှင့် ယောနသန်ကို မှတ်တော်မူ
၄၂ ၏။-ရှောလုကလည်း၊ ငါနှင့် ငါ့သားယောနသန် အဖို့စာရေးတံပြုလော့ဟုဆိုသဖြင့်၊ ယောနသန်
၄၃ ကိုမှတ်တော်မူ၏။- ရှောလုကလည်း၊ သင်ပြုသောအမှုကိုပြောလော့ဟု၊ ယောနသန်အားဆိုလျှင်၊ ယောနသန်က၊ အကျွန်ုပ်ကိုင်သောလှံဖျားနှင့်ပျားရည်အနည်းငယ်ကိုယူ၍ မြည်းစမ်းမိပါပြီ။ ထိုအမှုကြောင့်သာ သေရပါမည်ဟု ပြန်
၄၄ ပြော၏။- ရှောလုကလည်း၊ ယောနသန်၊ သင်

သည်ဆိတ်ဆိတ်မနေလျှင်၊ ဘုရားသခင်သည်
ထိုမှုမကောင်း၍ ပြုတော်မူပါစေသောဟု ဆိုသော်
၄၅ သည်။- လူများတို့က၊ ဣသရေလ အမျိုး၌ ဤ
ကယ်တင်ခြင်း ကျေးဇူးကို ပြုပြီးသော ယောန
သန်သည် သေရမည်လော၊ ထိုသို့ မဖြစ် ပါစေ
နှင့်၊ ထာဝရဘုရားအသက်ရှင်တော်မူသည်အ
တိုင်း၊ သူ၏ဆံခြည်တပင်မျှ မြေပေါ်မှာမကျရ၊
သူသည် ဘုရားသခင်နှင့် အတူ ယနေ့ ပိုင်း၍ ပြု
ပါပြီဟု ဆိုသဖြင့်၊ အသက်ချမ်းသာ စေခြင်းငှါ
၄၆ ယောနသန်ကိုကယ်နှုတ်ကြ၏။ ထိုနောက်ရှော
လုသည်ဖိလိတ္တိလူတို့ကိုမလိုက်၊ သူတို့သည်နေ
ရင်းအရပ်သို့ပြန်သွားကြ၏။
၄၇ ထိုသို့ရှောလုသည် ဣသရေလ အမျိုးကိုစိုးစံ
၍၊ ဝတ်ဝန်းကျင် ရန်သူ၊ မောဘ ပြည် သား၊
အမ္မုန်ပြည်သား၊ ဧဒုံပြည်သား၊ ဇောဘအမင်း
များ၊ ဖိလိတ္တိ လူများတို့ကိုစစ်တိုက်၍ စစ်ရှုံးစေ
၄၈ ရာရာ၌၊ သူတို့ကို အောင်လေ၏။- ဗိုလ်ခြေများ
ကိုစုံးဆော်၍အာမလက်အမျိုးသားတို့ကိုလုပ်
ကြံသဖြင့်၊ဣသရေလအမျိုးသားတို့ကို လုယက်
ဖျက်ဆီးသောသူတို့လက်မှ ကယ်နှုတ်လေ၏။-
၄၉ သား တော်ကား၊ ယောနသန်၊ ဣရှိ၊ မေလခိရှု
တည်း၊သမီးတော်နှစ်ယောက်တွင်အကြီးကား၊
၅၀ မေရပ်၊ အငယ်ကား၊ မိခါလတည်း။- မြောက်
သားတော်ကား၊ အဟိမတ်၏ သမီး အဟိနောင်
တည်း၊ ဗိုလ်ချုပ်မင်းကား၊ ထွေးတော်နေရ
၅၁ သား အာဗနာတည်း။-ခမည်းတော်ကိရှနှင့်အာ
ဗနာ၏ အဖ နေရသည့် အဗျေလ၏ သားဖြစ်၏။-
၅၂ ရှောလုထက်ကာလပတ်လုံး၊ဖိလိတ္တိလူတို့
ကို ကြပ်ကြပ် စစ်တိုက်ရကြ၏။ ခွန် အား ကြီး
သောသူ၊ ရဲရင့်သောသူတွေ့သမျှတို့ကို၊ ရှောလု
သည်ရွေးကောက်ခန့်ထားလေ့ရှိ၏။

၁၅

၁ ထာဝရဘုရား၏လူ ဣသရေလ အမျိုးကိုအုပ်စိုးစေခြင်းငှါ၊သင့်ကိုဘိသိက်
ပေးမည် အကြောင်း၊ ငါ့ကို အထက် က စေလွှတ်
တော်မူသည် ဖြစ်၍၊ ယခု မှာ ထာဝရ ဘုရား၏
၂ စကားတော်ကိုနားထောင်လော့။- ကောင်းကင်
ဗိုလ်ခြေ အရှင်ထာဝရ ဘုရား မိန့်တော်မူသည်
ကား၊ အဲဂုတ္တုပြည်မှထွက်လာသောဣသရေလ
အမျိုး၌၊အာမလက်အမျိုးပြုသောဆီးတားခြင်း
၃ အမှုကို ငါမှတ်ထျှတ်မှိ၏။- ယခု သွား၍ ထိုအ
မျိုးကို လုပ်ကြံလော့၊ နှစ်မြောခြင်းမရှိဘဲ၊ ရှင်း
ရှင်းဖျက်ဆီး၍၊ ယောက်ျားမိန်းမ၊ လူငယ်၊ နို့နို့
စို့၍၊ သိုး၊ နွား၊ ကုလားအုတ်၊ မြည်းတို့ကို သတ်
လော့ဟု၊ ရှောလုအား ဆင့်ဆိုသည် အတိုင်း။-
၄ ရှောလုသည်လူတို့ကိုစုဝေးစေ၍၊တေလိမ်မြို့မှာ
စာရင်းယူသဖြင့်၊ ခြေသည်သူရဲနှစ်သိန်း။ ယုဒ
၅ စစ်သူရဲတသောင်းရှိကြ၏။-ရှောလုသည်ထိုမှ
အာမလက်မြို့သို့ စစ်ချီ၍ ချိုင့်၌ တပ်ချပြီးမှ၊-
၆ ကေနိလူတို့ရှိရာသို့ စေလွှတ်လျက်၊ သင်တို့ကို
အာမလက်လူတို့နှင့်အတူငါဖျက်ဆီးမည်ဟုမိုး
ရိပ်စရာရှိသောကြောင့်၊ သူတို့ အထဲက ထွက်
သွား၍နေရာပြောင်းကြလော့၊ဣသရေလအမျိုး
သားတို့သည်အဲဂုတ္တုပြည်မှထွက်လာသောအ
ခါ၊ သင်တို့သည်ကျေးဇူး ပြုကြပြီဟု မှာလိုက်
သည်အတိုင်း၊ ကေနိလူတို့သည် အာမလက်လူ
၇ တို့အထဲကထွက်သွားကြ၏။- ရှောလုသည်ဟ
ဝိလမြို့မှစ၍၊ အဲဂုတ္တုပြည်တဖက်တချက်၌ နေ
သော ရှုရမြို့တိုင် အောင်၊ အာမလက် လူတို့ကို
၈ လုပ်ကြံလေ၏။- အာမလက် ရှင်ဘုရင်အာဂတ်
ကို အရှင်ဖမ်းမိ၏။ လူအပေါင်းတို့ကို ထားဖြင့်
၉ ရှင်းရှင်းဖျက်ဆီးလေ၏။- သို့ရာတွင်၊ရှောလုနှင့်
လူများတို့သည်အာဂတ်မင်းနှင့်တကွ၊ သိုးနွား
အမြတ်အထက်၊ ဆူသောသိုးသငယ်၊ ကောင်း
သောဥစ္စာရှိသမျှကိုနှစ်မြော၍၊ရှင်းရှင်းမဖျက်
ဆီးကြ။ အသုံးမဝင်၊ယုတ်မာသောဥစ္စာရှိသမျှ
ကိုသာရှင်းရှင်းဖျက်ဆီးကြ၏။
၁၀ ထာဝရဘုရား၏နှုတ်ကပတ်တော်သည် ရှမွေ
၁၁ လသို့ရောက် လာ၍၊- ငါသည် ရှောလုကို ရှင်
ဘုရင်အရာ၌ခန့်ထားသည်အမှုကြောင့်နောင်တ
ရ၏။ သူသည်ငါ၏ပညတ်တို့ကိုမကျင့်၊နောက်
သို့မလိုက်၊ လမ်းလွှဲပြီဟုမိန့်တော်မူ၏။ ရှမွေလ
သည်ဝမ်းနည်း၍၊ တညဥ့်လုံး ထာဝရဘုရား
၁၂ အားဟစ်ကြော်ပြီးလျှင်၊- နံနက်စောစောထ၍၊
ရှောလုကိုကြို့ဆိုခြင်းငှါ သွားသောအခါ၊ ရှော
လုသည် ကရမေလမြို့သို့ရောက်၍ အောင်တိုင်
ကိုစိုက်ပြီးမှ၊ လှည့်လည်သဖြင့်ဂိလဂါလမြို့သို့
လွန်သွားကြောင်းကို ကြားသောကြောင့်၊ ရှော
၁၃ လုရှိရာသို့သွားလေ၏။- ရှောလုကလည်း၊ ထာ
ဝရဘုရားသည် ကိုယ်တော်ကို ကောင်းကြီးပေး
တော် မူပါစေ သော၊ အကျွန်ုပ် သည် ထာဝရ
၁၄ ဘုရား အမိန့် တော် အတိုင်း ပြုပါပြီဟုဆို၏။-ရှ
မွေလက လည်း သို့ဖြစ်လျှင်၊ ငါကြားရသော
သိုးမြည်သံ၊နွားမြည်သံကား၊အဘယ်သို့နည်း၊

၁၅ ထုမေးသော်၊- ရှောလုက၊ အာမလက်ပြည်မှ
ဆောင်ခဲ့ပါပြီ၊ လူများတို့သည်၊ ကိုယ်တော်၏
ဘုရားသခင်ထာဝရဘုရားအား ယဇ်ပူဇော်လို
သော၄ါ၊ အကောင်းဆုံးသောသိုးနွားတို့ကိုနှစ်
မြော၍၊ ကြွင်းသောအရာမှိသမျှတို့ကို ရှင်းရှင်း
၁၆ ဖျက်ဆီးပါပြီဟုဆို၏။- ရှမွေလကလည်း၊နေပါ
ဦးလော့၊ မနေ့ညမှာထာဝရဘုရားမိန့်တော်မူ
သောစကားကိုပြန်ပြောပါမည်ဟု ရှောလုအား
၁၇ ဆိုလျှင်၊ ရှောလုက၊ ပြောပါတော့ဟု ဆို၏။-ရှ
မွေလကလည်း၊သင်သည်ကိုယ်အထင်အတိုင်း
ငယ်သောသူဖြစ်လျက်ပင်၊ဣသရေလအမျိုးတို့
၏အထွဋ်သို့ရောက်၍၊ ဣသရေလ ရှင်ဘုရင်အ
ရာနှင့်ထာဝရဘုရား ဘိသိတ်ပေးတော်မူသည်
၁၈ မဟုတ်သလော။- ထာဝရ ဘုရားက၊ သွားလော့၊
အပြစ်များသော အာမလက် အမျိုးသားတို့ကို
ရှင်းရှင်းဖျက်ဆီးလော့၊မဖျက်ဆီးမှီတိုင်အောင်
စစ်တိုက်လော့ဟု၊သင့်ကိုဝေးသောအရပ်သို့စေ
၁၉ လွှတ်တော်မူ၏။- သို့ဖြစ်၍ သင်သည် ထာဝရ
ဘုရား၏အမိန့်တော်ကိုနားမထောင်ဘဲ၊ရန်သူ၏
ဥစ္စာကိုလုယူ၍ ထာဝရဘုရား ရှေ့တော်၌၊ ဒုစ္စရိုက်ကိုအဘယ်ကြောင့်ပြုဘိသနည်းဟုပြော
၂၀ ဆိုသော်၊- ရှောလုက၊ အကျွန်ုပ်သည် ထာဝရ
ဘုရား၏ အမိန့်တော်ကိုကောင်းမွန် နားထောင်
ပါပြီ၊ ထာဝရ ဘုရား စေခိုင်းတော် မူသောလမ်း
သို့လိုက်ပါပြီ၊အာမလက်ရှင်ဘုရင်အာဂတ်ကို
ဆောင်ခဲ့၍၊ အာမ လက် အမျိုးသားတို့ကို ရှင်း
၂၁ ရှင်းဖျက်ဆီးပါပြီ။-သို့ရာတွင်၊လူများတို့သည်
ဂိလဂါလ မြို့၌ ကိုယ်တော်၏ ဘုရား သခင်ထာ
ဝရဘုရား အား ယဇ်ပူဇော် လိုသော၄ါ၊ လုယူ
သောသိုးနွား၊ရှင်းရှင်းဖျက်ဆီးအပ်သောအရာ
အကောင်းဆုံးတို့ကို သိမ်းယူကြပါပြီဟု ပြော
၂၂ ဆိုပြန်၏။- ရှမွေလကလည်း၊ ထာဝရဘုရား၏
အမိန့်တော်ကို နားထောင်ခြင်း၌ အားရတော်မူ
သကဲ့သို့၊ မီးရှို့ရာယဇ် အစရှိသော ယဇ်မျိုးတို့
ကိုပူဇော်ခြင်း၌အားရတော်မူမည်လော၊အလို
တော်သို့ လိုက်ခြင်းသည် ယဇ်မျိုးထက်သာ၍
ကောင်း၏၊ နားထောင်ခြင်းသည်၊ သိုးထီးဆီဥ
၂၃ ထက် သာ၍ ကောင်း၏။- ငြင်းဆန် သော သ
ဘောသည် နတ်ဆိုးနှင့် ပေါင်းခြင်း ကဲ့သို့ ၎င်း၊
ခိုင်မာသော သဘောသည် ဗေဒင် တန်ဆာ ကို
သုံးခြင်းကဲ့သို့၎င်းအပြစ်ကြီး၏၊သင်သည်ထာဝ
ရဘုရား၏ စကားတော်ကို ပယ်သောကြောင့်၊
ထာဝရဘုရားသည်ရှင်ဘုရင်အရာကို နှုတ်၍၊
၂၄ သင့်ကို ပယ်တော် မူပြီဟု ဆို၏။- ရှောလု က
လည်း၊ အကျွန်ုပ်သည်ပြစ်မှားပါပြီ၊ လူများကို
ကြောက်၍ သူတို့စကားကို နားထောင် သော
ကြောင့်၊ ထာဝရ ဘုရား၏ အမိန့် တော်ကို၎င်း၊
၂၅ ကိုယ်တော်၏ စကားကို၎င်းလွန်ကျူးပါပြီ။-အ
ကျွန်ုပ် အပြစ်ကို သည်းခံတော် မူပါ၊ အကျွန်ုပ်
သည် ကိုယ်တော်၏ ဘုရားသခင်ထာဝရဘုရား
ကိုကိုးကွယ်မည် အကြောင်း၊ အကျွန်ုပ်နှင့်အ
၂၆ တူပြန်လာပါဟုတောင်းပန်သော်လည်း၊-ရှမွေ
လက၊သင်နှင့်အတူငါမပြန်၊သင်သည် ထာဝရ
ဘုရား၏ အမိန့်တော်ကို ပယ်သောကြောင့်၊ထာ
ဝရ ဘုရားသည် ဣသရေလ ရှင်ဘုရင် အရာကို
နှုတ်၍သင့်ကိုပယ်တော်မူပြီဟုရှောလုအားဆို
၂၇ ပြီးမှ၊- လှည့်သွားသောအခါရှောလုသည်ရှမွေ
လ၏ဝတ်လုံ စွန်းကိုကိုင်ဆွဲ၍၊ ဝတ်လုံစုတ်လေ
၂၈ ၏။- ရှမွေလ က လည်း၊ ယနေ့ ထာဝရ ဘုရား
သည် ဣသရေလနိုင်ငံကိုသင်မှဆုတ်ယူ၍၊ သင့်
ထက်ကောင်းသောသင်၏ အိမ်နီးချင်းအားပေး
၂၉ တော်မူပြီ။- ထိုမှတပါး၊ ဣသရေလအမျိုး၏အ
စွမ်းသတ္တိဖြစ်သောဘုရားသည် မုသာသုံးခြင်း၊
နောင်တ ရခြင်းနှင့် ကင်းလွတ် တော်မူ၏၊ နောင်
တရတတ်သော၄ါ လူ ဖြစ် တော်မမူဟု ဆိုသော်၊-
၃၀ ရှောလု က၊ အကျွန်ုပ် ပြစ် မှား ပါ ပြီ၊ သို့ သော်
လည်း၊ အကျွန်ုပ်အမျိုးသားချင်း၊ အသက်ကြီး
သူတို့ရှေ့၌၎င်း၊ ဣသရေလ အမျိုးရှေ့၌ ၎င်း၊ အ
ကျွန်ုပ်၏ဂုဏ်အသရေကိုမဖျက်ပါနှင့်၊အကျွန်ုပ်
သည်ကိုယ် တော်၏ဘုရားသခင် ထာဝရဘုရား
ကိုကိုးကွယ်ရမည် အကြောင်း၊ အကျွန်ုပ်နှင့်အ
၃၁ တူပြန်လာပါဟု တောင်းပန်သည်အတိုင်း၊- ရှ
မွေလသည် ရှောလု နောက်သို့ လိုက်၍၊ ရှောလု
၃၂ သည်ထာဝရဘုရားကိုကိုးကွယ်လေ၏။- ထိုအ
ခါ ရှမွေလက၊ အာမလက်ရှင်ဘုရင်အာဂတ်ကို
ငါ့ထံသို့ခေါ်ခဲ့ကြဟုဆိုသည်အတိုင်း၊ အာဂတ်
က၊ သေဘေးသည် စင်စစ် လွန်သွားပြီဟု ဆို
၃၃ လျက် ရွှင်လန်းစွာလာ၏။- ရှမွေလက၊ မိန်းမများ
တို့သည်သင်၏ ထားကြောင့် သားဆုံးသကဲ့သို့၊
သင်၏အမိသည်သားဆုံးသောမိန်းမဖြစ်ရမည်ဟု
ဆိုလျက်၊ ဂိလ ဂါလ မြို့မှာ၊ ထာဝရ ဘုရား ရှေ့
၃၄ တော်၌၊အာဂတ်ကိုအပိုင်းပိုင်းဖြတ်လေ၏။- ထို
နောက် ရှမွေလသည် ရာမမြို့သို့သွား၍၊ ရှောလု
သည် မိမိနေရာ ဂိဗာမြို့၊ နန်းတော်သို့ ပြန် သွား

၁၆ သောအခါ–ရှောလုအမိနှမရောတ်မိထိုင်တော်၊ရှ
မွေထသည် နောတ်တခန် အကြည့် အရှုမထား၊
ထိုရာတွင်၊ ရှမွေထသည် ရှောလုအတွက် မိတ်မ
သာ ညည်းတွားလျက် နေ၏၊ ထာဝရ ဘုရား
သည်၊ ရှောလု ကို ဣသရေလ ရှင်ဘုရင် အရာ၌
ခန့်ထားသောအမှုကိုနောင်တရတော်မူ၏၊

၁၆

၁ တခန် ထာဝရ ဘုရားက၊ ရှောလုကို ဣသရေ
လ ရှင်ဘုရင်အရာမှ ငါပယ်သောကြောင့်၊ သင်
သည် အ ထယ် မျှ ကာ လပတ် လုံး မိတ် မသာ
ညည်းတွားလျက်နေလိမ့်မည်နည်း၊ သင်၏ဘူး
ကိုဆီနှင့်ပြည့်စေလော့၊ ဗက်လင်မြို့သားယေရှဲ
ရှိရာသို့ ငါစေလွှတ်မည်၊ သူ၏သားတို့တွင် ငါအ
ဖို့ရှင်ဘုရင် တပါးကို ငါပြင်ဆင် ပြီဟု၊ ရှမွေထ
၂ အားမိန့် တော်မူ၏၊– ရှမွေထက၊ အကျွန်ုပ်သည်
အဘယ်သို့သွားနိုင်ပါမည်နည်း၊ ရှောလုကြား
လျှင်၊သတ်ပါလိမ့် မည်ဟု လျှောက်သော်၊ ထာ
ဝရဘုရားက၊ နွားမတန်းကို ယူ၍၊ ငါသည်ထာ
ဝရ ဘုရားအား ယဇ်ပူဇော် ခြင်းငှါ လာ ပြီဟု
၃ ပြောလော့၊– ယေရှဲကိုလည်း၊ ယဇ်ပွဲသို့ ခေါ်
ဖိတ်လော့၊ ထိုအခါသင်သည် အဘယ်သို့ ပြုရ
မည်ကိုငါပြမည်၊ ငါသည်နာမဖြင့်ထုတ်ပြသော
သူကို၊ ငါ့အဖို့ဘိသိက်ပေးရမည်ဟုမိန့်တော်မူ
၄ သည် အ တိုင်း၊– ရှမွေထ ပြု၍ ဗက် လင် မြို့သို့
သွားလေ၏၊ ဗက်လင်မြို့သားအသက်ကြီးသူတို့
သည် ရှမွေထနှင့် တွေ့သော အခါ၊ တုန် လှုပ်၍
ကိုယ်တော်သည် ချမ်းသာပေးလျက်၊လာတော်
၅ မူသလောဟု မေးလျှောက် ကြသော်၊– ချမ်းသာ
ပေးလျက်၊ထာဝရဘုရားအားယဇ်ပူဇော်ခြင်း
ငှါငါလာပြီ၊မိမိတို့ကိုသန့်ရှင်းစေပြီးမှ၊ငါနှင့်ပ
တူယဇ်ပွဲသို့လာကြဟုဆိုသဖြင့်၊ ယေရှဲနှင့်သူ
၏ သားတို့ကို သန့်ရှင်းစေ၍ ယဇ်ပွဲသို့ခေါ်လေ
၆ ၏၊–သူတို့သည်ရောက်လာသောအခါ၊ဧလျာဗ
ကို ကြည့်ရှု၍၊ စင်စစ် ထာဝရ ဘုရား အခွင့်နှင့်
ဘိသိက် ခံရသော သူသည်၊ ရှေ့မှာ ရှိ၏ဟု ဆို
၇ လေသော်၊– ထာဝရဘုရားက၊ သူ၏မျက်နှာ၊သူ
၏အရပ်ကိုမကြည့်မရှုနှင့်၊သူကိုငါပယ်ပြီ၊ထာ
ဝရဘုရားသည်လူမြင်သကဲ့သို့ မြင်တော်မူသည်
မဟုတ်၊ လူသည်အဆင်း၊ သဏ္ဌာန်ကို ကြည့်ရှု
တတ်၏၊ထာဝရဘုရားမူကား၊ နှလုံးကိုကြည့်
၈ ရှုတတ်သည်ဟု၊ရှမွေထအားမိန့်တော်မူ၏၊–အ
ဘိနဒါဒ်ကိုခေါ်၍၊ရှမွေထ...ရှေ့

မှာ သွား စေသဖြင့်၊ ရှမွေထ က၊ ဤသူကို ထည်း
၉ ထာဝရဘုရားရွေးတော်မမူဟု ဆို၏၊–တခန်ယေ
ရှဲသည် ရှိမာကို သွားစေ သဖြင့်၊ ဤသူကို ထည်း
၁၀ ထာဝရဘုရားရွေးတော်မမူဟု ဆို၏၊–တခန်ယေ
ရှဲသည်သားခုနစ်ယောက် တို့ကိုရှမွေထရှေ့မှာ
သွား စေသဖြင့်၊ ရှမွေထ က၊ ဤသူတို့ ကိုထည်း
၁၁ ထာဝရဘုရားရွေးတော်မမူ၊– သင်၌သားမရှိပြီ
လောဟု၊ယေရှဲအားမေးလျှင်၊ယေရှဲက၊အငယ်
ဆုံး သော သား ရှိ ပါ သေး ၏၊ သိုး တို့ ကို ထိန်း
ကျောင်း လျက် နေပါသည် ဟု ပြောဆိုသော်၊ ရှ
မွေထက၊သူကိုခေါ်ခြင်းငှါလူကိုစေလွှတ်ပါ၊
သူမရောက်မှီ ပွဲသို့ဝင်၍ မထိုင်ရဟု ဆိုသည်အ
၁၂ တိုင်း၊– စေလွှတ်၍ သူကိုခေါ်ခဲ့၏၊ သူသည် နီ
သော ဆံပင်ရှိ၏၊ လှသော အဆင်းနှင့် ချစ်ဖွယ်
သောမျက်နှာထည်းရှိ၏၊ ထာဝရဘုရားက၊ ဤ
သူ ပေ တည်း၊ ထ ၍ ဘိသိက် ပေး လော့ဟု မိန့်
၁၃ တော်မူ၏၊– ရှမွေထသည်ထည်း၊ဆီဘူးကိုယူ၍
သူ၏အစ်ကို စုထဲမှာသူကို ဘိသိက်ပေးလေ၏၊
ထိုနေ့မှစ၍၊ထာဝရဘုရား၏ဝိညာဉ်တော်သည်၊
ဒါဝိဒ်အပေါ်မှာ သက် ရောက် လေ၏၊ ရှမွေထ
သည်ထ၍ရာမမြို့သို့ပြန်သွား၏၊
၁၄ ထာဝရ ဘုရား၏ ဝိညည် တော်သည် ရှောလု
မှထွက်သွား၍၊ ထာဝရဘုရား ထံတော်က ဆိုး
၁၅ သောဝိညည်သည်နှောင့်ရှက်တတ်၏၊–ရှောလု
၏ ကျွန်တို့က ထည်း၊ ယခုမှာ ဘုရား သခင် ထံ
တော်က ဆိုးသော ဝိညည် သည် ကိုယ်တော်ကို
၁၆ နှောင့် ရှက်တတ်ပါ၏၊– ခရားသော ကိုယ်တော်
၏ ကျွန်တို့ သည်၊ သာသာ စွာ စောင်းတီး တတ်
သောသူကို ရှာဖွေရမည် အကြောင်း၊ အရှင်အ
မိန့် ရှိတော် မူပါ၊ ဘုရားသခင် ထံတော် က၊ ဆိုး
သော ဝိညည် လာ သော အခါ၊ သူသည် စောင်း
တီးသဖြင့်၊ ကိုယ်တော်သည် ချမ်းသာရတော်မူ
၁၇ မည်ဟုလျှောက်လျှင်၊– ရှောလုက၊ သာသာစွာ
တီးတတ်သောသူကိုငါ့အဖို့ရှာဖွေ၍၊ ငါ့ထံသို့ခေါ်
၁၈ ခဲ့ကြဟု၊ကျွန်တို့အားမိန့်တော်မူသော်၊–ကျွန်တ
ယောက်က၊ ကျွန်တော်တွေ့ဘူးသော ဗက်လင်
မြို့ သား၊ ယေရှဲ သားသည်၊ စောင်း တီး သော အ
တတ်၊ ခဲ ရင့် ခြင်း၊အစွမ်း သတ္တိနှင့် ပြည့်စုံ၍၊စစ်
မှု၌ရင့်၊ ပညာစကား၌ရင့်၊ လှကျက် ပါ၏၊ အ
ဆင်းလည်းလှပါ၏၊ ထာဝရဘုရားသည်သူနှင့်
အတူ ရှိတော် မူ၏ ဟု လျှောက် သော ကြောင့်၊–
၁၉ ရှောလုက၊ ယေရှဲရှိရာသို့လူကိုစေလွှတ်၍၊ ဆိုး

ထိန်းဖြစ်သောသင်၏ သား၊ ဒါဝိဒ်ကို ငါ့ထံသို့စေ
၂၀ လွှတ် ရမည်ဟု အမိန့် တော်ရှိ၏။-ယေရှဲသည်
မုန့်တင်သောမြည်း၊စပျစ်ရည်ဘူး၊ ဆိတ်သငယ်ကို
ယူ၍မိမိသားဒါဝိဒ်တွင် ရှောလုထံသို့ပေးလိုက်
၂၁ လေ၏။-ဒါဝိဒ်သည်ရှောလုထံသို့ရောက်၍ခစား
သဖြင့်၊ ရှောလု သည် အလွန် ချစ် ၍၊ လက်နက်
၂၂ တော်ဆောင်အရာ၌ ခန့်ထား၏။- ရှောလုသည်
ထည်းယေရှဲရှိရာသို့လူကိုစေလွှတ်၍၊ ဒါဝိဒ်ကို
ငါ့မိတ်နှင့် တွေ့သောကြောင့်၊ ငါ့ထံ၌ ခစားပါစေ
၂၃ ဟုအခွင့်တောင်းလေ၏။-ဘုရားသခင်ထံတော်
က၊ ဆိုးသော ဝိညာဉ်သည် ရှောလု အပေါ်မှာ
ရောက် သောအခါ၊ ဒါဝိဒ်သည် စောင်းကိုယူ၍
တီးသဖြင့်၊ ဆိုးသောဝိညာဉ်ထွက်သွား၍၊ရှော
လုသည်သက်သာလျက်ပကတိ ကျန်းမာလျက်
ရှိတတ်၏။

၁၇

၁ ဖိလိတ္တိလူတို့သည်မိုလ်ခြေများကိုနှိုးဆော်၍၊
ယုဒခရိုင်ရှောခေါမြို့၌ စုဝေးသဖြင့်၊ ရှောခေါမြို့
နှင့်အဇေကာမြို့စပ်ကြား၊ ဧဖေသဒမိမ်အရပ်မှာတပ်ချ
၂ ကြ၏။-ရှောလုနှင့်ဣသရေလလူတို့သည်စုဝေး
၍ဧလာချိုင့်နားမှာတပ်ချ၍၊ ဖိလိတ္တိ လူတို့ကို
၃ တိုက်မည်ဟုစစ်ခင်းကျင်းကြ၏။-ဖိလိတ္တိလူအ
သို့တို့ သည် ချိုင့်တ ဖက်၌၊ တောင် ပေါ်မှာ ရပ်
လျက်၊ဣသရေလလူအသို့တို့သည် ချိုင့်တဖက်
၄ ၌၊ တောင် ပေါ်မှာ ရပ်လျက် ရှိကြ၏။- ခြောက်
တောင်နှင့်တထွာအရပ်မြင့်သောဂါသမြို့သား၊
ဂေါလျတ်အမည်ရှိသောသူရဲသည် ဖိလိတ္တိတပ်
၅ ထဲက ထွက်လာ၏။- သူသည်ခေါင်းပေါ်မှာကြေး
ဝါခမောက်လုံးကို ဆောင်း၍၊ အချိန်ငါးထောင်
အချိန် ရှိသော ကြေးဝါ ချပ် အကျႌကို ဝတ်၏။-
၆ ကြေးဝါခြေစွပ်ကို စွပ်လျက်ပခုံးကြားမှာကြေး
၇ ဝါကိုဒိုင်းလက်နက်ကိုဆွဲလျက်ရှိ၏။ လှံရိုးကား၊
ရက်ကန်း လက် လိပ်နှင့် အမျှ ကြီး၏။ လှံကိုယ်
ကား၊ သံခြောက်ပိဿာ အချိန် ရှိ၏။ လူရှေ့မှာ
ဒိုင်းလွှားကို ဆောင်သော သူတယောက် သည်
၈ သွားရ၏။-ထိုသူရဲသည်ရပ်လျက်၊ သင်တို့သည်
စစ်ပြိုင်ခြင်းငှါအဘယ်ကြောင့်ထွက်လာကြသ
နည်း။ ငါသည်ဖိလိတ္တိလူ၊ သင်တို့သည် ရှောလု
၏ကျွန်ဖြစ်ကြသည်မဟုတ်လော။လူတယောက်
ကို ရွေးကောက်၍၊ ငါနှင့် တိုက် ခြင်းငှါ လာပါ
၉ စေ။- လူသည်ငါ့ကိုတိုက်၍သတ်နိုင်လျှင်၊ ငါတို့
သည်သင်တို့၏ကျွန်ခံမည်။ သို့မဟုတ်၊ထိုသူကို
ငါနိုင်၍သတ်လျှင်၊ သင်တို့သည်ငါ့တို့၏ကျွန်ခံ
၍၊ ငါတို့အမှုကိုဆောင်ရွက်ရကြမည်ဟု၊ ဣသ
၁၀ ရေလ မိုလ်ခြေတို့ကို ထိ၍ ပြောဆို၏။- ထိုနေ့
ထိုဖိလိတ္တိလူက၊ ဣသရေလ မိုလ်ခြေတို့ကို ထိ၍ရှု
ငါကြိမ်းပ၏၊ လူ ချင်း တိုက် စေ ခြင်းငှါ လူ တ
၁၁ ယောက်ကို ပေး ကြလော့ဟု ဆို၏။- ဖိလိတ္တိလူ
ပြောသောထိုစကားကိုရှောလုနှင့်ဣသရေလလူ
အပေါင်းတို့သည်ကြားလျှင်၊ မိတ်ပျက်၍အလွန်
ကြောက်ရွံ့ကြ၏။
၁၂ ယုဒပြည်၊ ဗက်လင်မြို့၊ ဧဖရတ် အရပ်သား
ဖြစ် သော ဒါဝိဒ် ၏ အဖ ယေရှဲ သည် သား ရှစ်
ယောက်ရှိ၏။ရှောလုလက်ထက်၌ထိုသူသည်အ
၁၃ သက်ကြီး သောသူ၏ အရာရှိ၏။- ယေရှဲ၏သား
တို့တွင်အသက်အကြီးဆုံးသော သုံးယောက်
တို့သည်စစ်မှုကိုထမ်း၍၊ ရှောလုနောက်သို့လိုက်
ကြ၏။သူတို့အမည်ကား၊ သားဦးဧလျာဘ၊ဒုတိ
ယသားအဘိနဒပ်၊ တတိယသားရှိမာတည်း။-
၁၄ ဒါဝိဒ်သည် အငယ်ဆုံး သောသားဖြစ်၏။ သား
ကြီး သုံးယောက်တို့သည် ရှောလု နောက်တော်
၁၅ သို့လိုက် ကြသော်လည်း။- ဒါဝိဒ်သည် မိမိအဖ၏
ဗက်လင်မြို့မှာမိမိအဖ၏သိုးတို့ကိုထိန်းကျောင်း
၁၆ ခြင်းငှါ ပြန်သွား လေ၏။- ဖိလိတ္တိ လူသည် အ
ရက်လေးဆယ်ပတ်လုံး၊ နံနက်တခါ၊ညဦးတခါ
၁၇ ချဉ်းကပ်၍ကိုယ်ကိုပြ၏။ ထိုအခါယေရှဲသည်
မိမိသားဒါဝိဒ်ကို ခေါ်၍၊ သင့်အစ်ကိုတို့ အဖို့
ပေါက်ပေါက်တဧဖာနှင့် ဤမုန့်ဆယ်လုံးတို့ကို
ယူ၍၊ အစ်ကိုတို့ ရှိရာ တပ်တော်သို့ ပြေး သွား
၁၈ လော့။- ဤဒိန်ခဲဆယ်လုံးကိုလည်းယူ၍ သူတို့
တပ်မှူးအား ဆက်လော့။ သင့်အစ်ကိုတို့သည်
ကျန်းမာခြင်းရှိသည်မရှိသည်ကိုကြည့်ရှုပြီးမှ၊
သူတို့ထံမှာသက်သေ တစုံတခုကို ခံယူလော့ဟု
၁၉ မှာ လိုက်လေ၏။- ထိုကာလ၌ ရှောလုမှစ၍၊ ဒါ
ဝိဒ် အစ်ကိုတို့နှင့် ဣသ ရေလ လူ အပေါင်း တို့
သည် ဧလာချိုင့်မှာ၊ ဖိလိတ္တိ လူတို့ကို စစ်တိုက်
လျက်ရှိကြ၏။
၂၀ ဒါဝိဒ်သည်နံနက်စောစောထ၍သိုးတို့ကိုသိုး
ထိန်း၌အပ်ပြီးလျှင်၊အဖမှာလိုက်သည့်အတိုင်း၊
စားစရာကိုယူသွား၍၊ ရထားရှည်းထားရာသို့
၂၁ ရောက်သောအခါ။- ဣသရေလတပ်သားတို့နှင့်
ဖိလိတ္တိတပ်သားတို့သည်စစ်ခင်းကျင်း၍၊စစ်တ
လင်းသို့ရှိလျက်၊ စစ်တိုက်မည်အသံနှင့် ကြွေး
၂၂ ကြော်ကြ၏။-ဒါဝိဒ်သည်မိမိ၌ပါသောအရာတို့



 

တို့ရှိရာခေါင်ထက်၌ စစ်ထား ပြီးလျှင်၊ တပ်
သားရှေ့ထဲသို့ပြေး၍ မိမိအစ်ကိုတို့ကိုနှုတ်ဆက်
၂၃ ၏-ထိုသူတို့နှင့်ပြောစဉ်တွင်၊ ဖိလိတ္တိလူ၊ ဂါသမြို့
သား ဂေါလျတ် အမည်ရှိသော သူရဲသည်၊ ဖိ
လိတ္တိတပ်ထဲကထွက်လာ၍ယမန်ကဲ့သို့ပြောဆို
၂၄ သည်ကိုဒါဝိဒ်သည်ကြား၏- ဣသရေလ
လူအပေါင်းတို့သည်ထိုသူကိုမြင်သောအခါ၊ အ
၂၅ လွန်ကြောက်လန့်၍ ပြေးကြ၏- အချို့ တို့က
သည်း၊ထိုလူထွက်လာသည်ကိုမြင်သလော၊ ဣ
သရေလ အမျိုးကို ကြိမ်းပလျှက် ထွက် လာပါ
သည် တ ကား။ ထိုသူကို သတ် သော သူ အား ရှင်
ဘုရင်သည်ကြီးသော စည်းစိမ်နှင့်ချီးမြှောက်၍၊
သမီးတော်ကိုလည်း ပေးစား တော်မူမည်၊ ထိုသူ
၏အဆွေအမျိုးကိုလည်း၊ ဣသရေလ နိုင်ငံတွင်
၂၆ အခွန်မှလွတ်တော်မူမည်ဟုပြောဆိုကြ၏-ဒါဝိဒ်
ကလည်း၊ ထိုဖိလိတ္တိလူကိုသတ်၍၊ ဣသရေလ
အမျိုးခံသော အရှက်ကွဲခြင်းကို ပယ်ရှင်းသော
သူသည်၊ အဘယ်အကျိုးကို ရလိမ့်မည်နည်း။
အသက် ရှင်တော် မူသော ဘုရား သခင် ၏ ဗိုလ်
ခြေတို့ကိုကြိမ်းပရမည် အကြောင်း၊ အရေဖျား
လှီးခြင်းကို မခံသောထိုဖိလိတ္တိလူသည် အဘယ်
သို့သောသူဖြစ်သနည်းဟု၊မိမိအနားမှာရှိသော
၂၇ သူတို့အား မေးမြန်းလျှင်၊- သူတို့က၊ ထိုလူကို
သတ်သော သူသည် ဤမည်သော အကျိုးကိုရ
၂၈ လိမ့်မည်ဟု၊ယမန်ကဲ့သို့ပြန်ပြောကြ၏- ထိုသူ
တို့နှင့်ဒါဝိဒ်ပြောသည်ကို အစ်ကိုအကြီး ဧလျာ
ဘ ကြား လျှင်၊ ဒါဝိဒ်ကို အမျက် ထွက်၍၊ သင်
သည်အဘယ်ကြောင့်ဤအရပ်သို့လာသနည်း။
ထိုနည်းသော သိုးတို့ကို တောတွင် အဘယ်သူ
ထံ၌အပ်ခဲ့သနည်း။ သင့်မာနကြီးခြင်း၊သင့်
စိတ်နှလုံး ဆိုးညစ်ခြင်းကို ငါသိ၏၊ စစ်တွဲကို
၂၉ ကြည့်ရှုခြင်းငှါသာ လာပြီဟုဆို၏- ဒါဝိဒ်က
လည်း၊ အကျွန်ုပ်သည် အဘယ်အမှုကို ပြုမိသ
နည်း။ ထိုသို့ပြောစရာအကြောင်းမရှိလောဟုဆို
၃၀ သောနောက်၊- အခြားသောသူတို့ထံသို့လှည့်၍
ယမန်ကဲ့သို့မေးမြန်းလျှင်၊သူတို့သည်ရှေးဖတူ
ပြန်ပြောကြ၏။
၃၁ ထိုသို့ ဒါဝိဒ်ပြောသော စကားကို ကြားသော
သူတို့သည်၊ ရှောလုထံတော်၌ ကြား လျှောက်
၃၂ သော်၊ဒါဝိဒ်ကိုခေါ်တော်မူ၏-ဒါဝိဒ်ကလည်း၊
ထိုလူကြောင့်အဘယ်လူမျှစိတ်မပျက်ပါစေနှင့်။
ကိုယ်တော်ကျွန်သွား၍ ထိုဖိလိတ္တိလူကိုတိုက်ပါ
၃၃ မည်ဟုရှောလုအားလျှောက်လျှင်၊-ရှောလုက၊
သင်သည် ထိုဖိလိတ္တိလူကို သွား၍ မတိုက် နိုင်။
သင်သည်နုပျိုသောသူဖြစ်၏၊ထိုသူသည်ပျိုသော
အရွယ်မှစ၍စစ်သူရဲဖြစ်ခဲ့ပြီဟု၊ ဒါဝိဒ်အားဆို
၃၄ သော်၊- ဒါဝိဒ်က၊ ကိုယ်ကော်ကျွန်သည်အဘ၏
သိုးတို့ကို ထိန်းကျောင်းစဉ်အခါ၊ ချင်သေ့နှင့်
ဝံသည်လာ၍ သိုးသငယ်ကိုသိုးစုထဲကကိုက်ယူ
၃၅ ပါ၏- ကျွန်တော်လိုက်၍သတ်သဖြင့်၊ ထိုးသ
ငယ်ကို သူ့ပါးစပ်ထဲက နှုတ်ပါ၏၊ ဝံသည် ကျွန်
တော်ကိုပြန်၍ ကိုက်သောအခါ၊ ဝံ၏မုတ်ဆိတ်ကို
၃၆ ကိုင်၍ရိုက်သတ်ပါ၏- ကိုယ်တော် ကျွန်သည်
ချင်သေ့နှင့်ဝံနှစ်ကောင်လုံးကိုသတ်ပါ၏၊ အရေ
ဖျား လှီး ခြင်းကို မခံသော ထိုဖိလိတ္တိလူသည်၊
အသက် ရှင်တော် မူသော ဘုရား သခင် ၏ ဗိုလ်
ခြေတို့ကိုကြိမ်းပသောကြောင့်၊ထိုအကောင်ထ
၃၇ ကောင်ကဲ့သို့ဖြစ်ပါလိမ့်မည်။- ချင်သေ့ထက်၊ ဝံ
ထက်မှ ကျွန် တော်ကို ကယ် နှုတ်တော် မူသော
ထာဝရဘုရားသည်၊ ထိုဖိလိတ္တိလူထက်မှကယ်
နှုတ်တော်မူလိမ့်မည်ဟု၊ရှောလုအားလျှောက်
လေသော်၊ရှောလုက၊သွားလော့၊ထာဝရဘုရား
သည်သင်နှင့်အတူရှိတော်မူပါစေသောဟု၊ ဒါ
ဝိဒ်အားဆိုလေ၏။
၃၈ ရှောလုသည်လည်း၊ ဒါဝိဒ်ကို မိမိအဝတ်နှင့်
ဝတ်စေသဖြင့်၊ သူ၏ ခေါင်း ပေါ်မှာ ကြေးဝါ ခ
မောက်လုံးကိုတင်၍၊ သံချပ်အင်္ကျီကိုလည်းဝတ်
၃၉ စေ၏၊-ဒါဝိဒ်သည်ထားတော်ကိုအဝတ်ပေါ်မှာ
စည်း၍သွားမည်ဟုအားထုတ်သော်လည်း၊ထို
ထက်နက်များကိုမစုံစမ်းသေး။ သို့ဖြစ်၍ ဒါဝိဒ်
က၊ဤထက်နက်တို့နှင့် ကျွန်တော်မသွားနိုင်ပါ။
မစုံစမ်းပါသေးဟုရှောလုအားလျှောက်၍ချွတ်
၄၀ ပြန်လေ၏၊-တဖန်ဒိမိတောင်ဝေးကိုကိုင်လျက်၊
ချောသောကျောက်ငါးလုံးကို ချောင်းထဲက ရွေး
၍၊ သိုးထိန်းတန်ဆာတည်းဟူသောလွယ်အိတ်
၌ထည့်ပြီးမှ၊ သောက် ဖွဲ့ ကိုလည်း ကိုင်၍၊ ဖိ
၄၁ လိတ္တိလူရှိရာသို့ချဉ်းလေ၏၊- ဖိလိတ္တိလူ သည်
လည်း၊ဒါဝိဒ်ရှိရာသို့ချဉ်း၍၊သူ့ရှေ့မှာဒိုင်းလွှား
၄၂ ကိုဆောင် သော သူလည်း၊ သွား ၏၊- ဖိ လိတ္တိလူ
သည်ကြည့်၍ ဒါဝိဒ်ကို မြင်သောအခါ၊ မထီမဲ့
မြင်ပြု၏၊အကြောင်းမူကား၊သူသည်နုပျိုသော
သူ၊ ဆံပင်နီ၍ မျက်နှာ လှသောသူ ဖြစ်၏၊- ဖိ
လိတ္တိလူက၊ သင်သည် တောင် ဝေး နှင့် ငါ့ထံသို့
လာရမည်အကြောင်း၊ငါသည်ခွေးဖြစ်သလော

ထုံမေးလျှက်၊ မိမိဘုရားဆို့ကို ထိုင်တည်၍ ဓါ
၄၄ ဝိဒ်ကိုကျိန်ဆဲလေ၏။- ထိုနောက် ဖိလိတ္တိလူက၊ လာ
ခဲ့။ သင့်အသားကို မိုဃ်းကောင်းကင် ငှက်နှင့်
တောသားရဲတို့အား ငါပေးမည်ဟု၊ ဓါဝိဒ်ကိုဆို
၄၅ ၏။- ဓါဝိဒ်က၊ သင်သည်ထား၊ လှံ၊ ကာကိုစွဲကိုင်လျှက်
ငါ့ထံသို့လာ၏။ ငါသည်၊ သင်ကဲ့ရဲ့သော ဣသ
ရေလ ဗိုလ်ခြေတို့၏ ဘုရား သခင်၊ ကောင်း ကင်
ဗိုလ်ခြေ အရှင် ထာဝရ ဘုရား၏ နာမ တော်ပါ
၄၆ လျှက်၊ သင့်ရှိရာသို့လာ၏။- ထာဝရဘုရားသည်
သင့်ကိုငါ့လက်၌ ယနေ့အပ်တော် မူသဖြင့်၊ သင့်
ကို ငါသတ်၍ ထိပ်ပင်း ကို ဖြတ်မည်။ ဖိလိတ္တိ
ဗိုလ်ခြေ အသေကောင် များကို၊ မိုဃ်းကောင်း
ထင်ငှက်နှင့် တောသားရဲ တို့အား ယနေ့ ငါပေး
မည်။ ဣသရေလအမျိုး၌ ဘုရားသခင်ရှိတော်မူ
သည်ကို၊ မြေကြီး သား အပေါင်း တို့သည် သိရ
၄၇ ကြ လိမ့် မည်။- ထာဝရ ဘုရား သည် ထား လှံ
အား ဖြင့် ကယ် တင် တော် မမူ ကြောင်း ကို၊ ဤ
ပရိသတ်အပေါင်းတို့သည် သိရကြလိမ့်မည်။
အကြောင်းမူကား၊ ထာဝရဘုရားသည်စစ်မှုကို
စိုင်၍၊ ငါတို့ ထက် သို့ အပ် နှံ တော် မူမည်ဟု၊ ဖိ
၄၈ လိတ္တိလူအားဆို၏။- ဖိလိတ္တိလူသည်ထ၍၊ ဓါဝိဒ်
နှင့်တွေ့ခြင်းငှါချည်းလာသောအခါ၊ ဓါဝိဒ်သည်
အညီး၊ ဖိလိတ္တိလူနှင့် တွေ့ ခြင်းငှါ ဗိုလ်ခြေ ရှိရာ
၄၉ သို့၊ အလျင် အမြန် ပြေးပြီးမှ၊- လွယ်အိတ်ထဲက
ကျောက် တလုံးကို နှိုက်ယူ၍ လွှဲပြစ်၏။ ဖိလိတ္တိ
လူ၏ နဖူးကိုမှန်၍၊ နဖူးလေါက်သဖြင့်၊ သူသည်
၅၀ မြေပေါ်မှာ ငိုက် ဆိုက် လဲလေ၏။- ထိုသို့ ဓါဝိဒ်
သည် လောက် လွှဲ နှင့် ကျောက် တ လုံး အား ဖြင့်
၅၁ နိုင်လျှတ်ထိမိုက်၍သတ်လေ၏။- ထိုအခါ ဓါဝိဒ်
သည်ထားမပါသောကြောင့်ပြေး၍၊ ဖိလိတ္တိလူ
ထိုနင်းလျှက်၊ သူ၏ထားကို ထားအိမ်မှ နှုတ်ဆွဲ
ပြီးလျှင်၊ ထိပ်ပင်းကို ဖြတ်၍ အပြီး သတ်လေ
၏။ ဖိလိတ္တိလူ တို့သည်၊ သူတို့၏သူရဲသေကြောင်း
၅၂ ထိုမြင်သောအခါပြေးကြ၏။- ထိုအခါ ဣသရေ
လအမျိုး၊ ယုဒအမျိုးသားတို့သည်ထ၍၊ ကြွေး
ကြော်လျှက်၊ ချိုင့်တိုင် အောင်၎င်း၊ ဧကြုန်မြို့တံ
ခါးတိုင်အောင် ၎င်းဖိလိတ္တိလူတို့ကို လိုက်ကြ၏။
ထိမိုက်သောဖိလိတ္တိလူတို့သည် ရှာရိမ်မြို့လမ်း
နားမှစ၍၊ ဂါသမြို့၊ ဧကြုန်မြို့တိုင်အောင်လဲကြ
၅၃ ၏။- ဣသရေလ အမျိုးသားတို့ သည် ဖိလိတ္တိလူ
တို့ကိုလိုက်ရာမှ ပြန်လာ၍၊ သူတို့ထဲများကိုလု
၅၄ ယူကြ၏။- ဓါဝိဒ်သည်ဖိလိတ္တိလူ၏ဦးခေါင်းကို
ယူ၍၊ ယေရုရှလင် မြို့သို့ ဆောင် သွား၏။ သူ၏
လက်နက်များကို မိမိတဲ၌ထား၏။
၅၅ ဓါဝိဒ်သည်ဖိလိတ္တိလူကို တိုက်ခြင်းငှါထွက်
သွားသည်ကို ရှောလုသည်မြင်လျှင်၊ ထိုလုလင်
ကား၊ အဘယ်သူ၏ သားဖြစ်သနည်းဟု၊ ဗိုလ်
ချုပ်မင်းအာဗနာကိုမေး၏။ အာဗနာကလည်း၊
အရှင်မင်းကြီး၊ အသက်တော်ရှင်သည်အတိုင်း၊
၅၆ ကျွန်တော်မသိပါဟု လျှောက်လျှင်၊- ရှင်ဘုရင်
က၊ ထိုလုလင်သည်အဘယ်သူ၏သား ဖြစ်လိမ့်
၅၇ မည်ကို မေးစစ် လော့ဟု မိန့်တော် မူ၏။- ဓါဝိဒ်
သည်ဖိလိတ္တိလူကိုသတ်ပြီးမှ၊ သူ၏ဦးခေါင်းကို
ကိုင်လျှက် ပြန်လာသော အခါ၊ အာဗနာသည်
၅၈ ခေါ်၍ရှောလုထံသို့ဆောင်သွားပြီးလျှင်၊- ရှော
လုက၊ အချင်းလုလင်၊ သင် သည် အဘယ် သူ၏
သား ဖြစ်သ နည်းဟု မေး တော် မူ၏။ ဓါဝိဒ်က
လည်း၊ ကျွန်တော်သည်ကိုယ်တော်ကျွန်၊ ဗက်
လင် မြို့ သား၊ ယေရှဲ၏ သား ဖြစ် ပါ သည် ဟု
လျှောက်လေ၏။

၁၈

၁ ထိုသို့ လျှောက် ပြီးသည် နောက်၊ ရှောလု၏
သား ယောနသန်စိတ်နှစ်လုံး သည်၊ ဓါဝိဒ်စိတ်
နှစ်လုံးနှင့် စွဲကပ်လျှက် ရှိ၍၊ ဓါဝိဒ်ကိုကိုယ်နှင့်
၂ အမျှချစ်လေ၏။- ထိုနေ့၌ ရှောလုသည် ဓါဝိဒ်ကို
သိမ်းထည်း၍၊ သူ့အဘ၏ အိမ်သို့၊ နောက်တဖန်
၃ သွားနေရသောအခွင့်ကိုပေးတော်မမူ။- ယောန
သန်သည် လည်း၊ ဓါဝိဒ်ကို ကိုယ်နှင့် အမျှ ချစ်
သော့ ကြောင့်၊ သူနှင့်အတူ မိဿဟာယ ဖွဲ့ပြီး
၄ လျှင်၊- မိမိဝတ်သော ဝတ်လုံကိုချွတ်၍၊ မိမိအ
ဝတ်တန်ဆာများနှင့်ထား၊ လေး၊ ခါးစည်းတို့ကို
၅ ပင်၊ ဓါဝိဒ်အားပေးလေ၏။- ဓါဝိဒ်သည်၊ ရှောလု
စေခိုင်းသမျှကိုသွား၍သတိပညာနှင့်ပြုမူသော့
ကြောင့်၊ စစ်သူရဲအုပ်အရာ၌ခန့်ထားတော်မူသ
ဖြင့်၊ ဓါဝိဒ်သည်ကျွန်တော်မျိုးမှစ၍ လူအပေါင်း
တို့တွင် မျက်နှာရ၏။
၆ ဓါဝိဒ်သည် ဖိလိတ္တိလူကို သတ်ပြီးမှပြန်လာ
၍၊ ရောက်လေရာရာ၌၊ မိန်းမများတို့သည် ရှောလု
မင်းကြီးကို ခရီးဦးကြို ပြုအံ့သောငှါ၊ ရွှင်လန်း
သော စိတ်နှင့် သီခြင်းဆိုလျှက်၊ ကလျှက်၊ ပတ်
သာ အစရှိသည် တို့ကို တီးလျှက်၊ ဣသရေလ
၇ မြို့ရွာ များ ထဲက ထွက် လာ သ ဖြင့်၊- ရှောလု
အ ထောင် ထောင်၊ ဓါဝိဒ် အ သောင်း သောင်း
သတ်လေ၏ တကားဟု၊ အဖျည် ဖျည် သီခြင်း

၈ ဆိုကြ၏။- ရှောလုက၊ သူတို့သည် ဒါဝိဒ်အား အသောင်း သောင်း၊ ငါ့အား အထောင်ထောင် သာ
ပေးကြပြီ။ နိုင်ငံတော်မှတပါး၊ အဘယ်အရာကို
ပေးနိုင်သေးသနည်းဟု အလွန်အမျက်ထွက်၍၊
၉ ထိုစကားကြောင့် မိတ်ပျက်လေ၏။- ထိုနေ့မှစ၍
၁၀ ဒါဝိဒ်ကိုအစည်းချောင်းမြောင်းလျက်နေ၏။-နက်
ဖန်နေ့၊ ထာဝရဘုရားထံတော်က၊ ဆိုးသော ဝိ
ညာဉ် သည် ရှောလု အပေါ်မှာ ရောက်သဖြင့်၊
ရှောလုသည်နန်းတော်အထဲ၌၊ ပရောဖက်ပြု
သောကြောင့်၊ ဒါဝိဒ်သည်အရင်ကဲ့သို့စောင်းတီး
၁၁ သော်၏။ ရှောလုသည်လှံတိုကိုကိုင်လျက်ရှိ၍၊-ဒါ
ဝိဒ်ကို ထရံနှင့်မှာ ထိုးမည်ဟု အကြံရှိသည်အ
တိုင်း၊ လှံ့တိုကိုထိုးပြစ်သော်လည်း၊ ဒါဝိဒ်သည်
၁၂ အထံတော်မှ နှစ်ကြိမ်ရှောင်ဖွဲလေ၏။- ထိုသို့
ထာဝရဘုရားသည်ရှောလုထံမှထွက်၍၊ ဒါဝိဒ်
နှင့်အတူရှိတော်မူသောကြောင့်၊ ရှောလုသည်
၁၃ ဒါဝိဒ်ကို ကြောက်ရွံ့သဖြင့်၊- အထံတော်မှ နှင်
၍၊ လူတထောင်အုပ်အရာကိုပေး၏။ ဒါဝိဒ်သည်
၁၄ လူများရှေ့၌ထွက်ဝင်ရ၏။- ဒါဝိဒ်သည်အရာရာ
၌ သတိ ပညာနှင့် ပြုမူ၍၊ သူနှင့်အတူ ထာဝရ
၁၅ ဘုရား ရှိတော်မူ၏။- ထိုသို့ အလွန် သတိ ပညာ
နှင့် ပြုမူသည်ကို ရှောလုသည်မြင်လျှင်၊ သာ၍
၁၆ ကြောက်ရွံ့လေ၏။- ဣသရေလအမျိုး၊ ယုဒအ
မျိုးသား၊ အပေါင်းတို့သည် ဒါဝိဒ်ကို ချစ်ကြ၏။
အကြောင်းမူကား၊ သူတို့ရှေ့၌ဒါဝိဒ်သည်ထွက်
ဝင်တတ်၏။

၁၇ ထိုနောက် ရှောလု သည် ဒါဝိဒ်ကို ခေါ်၍၊ ငါ့သမီး
ကြီး မေရပ်ကို သင့်အား ငါပေးစားမည်။ သင်
သည် ငါ့အဘို့ရဲရင့်၍၊ ထာဝရဘုရား၏အဘို့စစ်တိုက်
ခြင်းကိုသာပြုလော့ဟုမိန့်တော်မူ၏။ အကြောင်း
မူကား၊ ငါ့လက်သည် သူ့အပေါ်သို့ မရောက်စေ
နှင့်၊ ဖိလိတ္တိလူတို့လက်သည်ရောက်ပါစေသော
၁၈ ဟု ရှောလု အကြံ ရှိ၏။- ဒါဝိဒ် ကလည်း၊ ကျွန်
တော် သည် ရှင်ဘုရင်၏ သမက်တော် ဖြစ်ရပါ
မည့်အကြောင်း၊ အဘယ်သို့သောသူဖြစ်ပါသ
နည်း။ ကျွန်တော်အသက်နှင့်ကျွန်တော်အဆွေ
အမျိုးသည်၊ ဣသရေလနိုင်ငံ၌၊ အဘယ်သို့ဖြတ်
၁၉ ပါသနည်းဟု ရှောလုအား လျှောက်၏။- ထိုမှရာ
တွင်၊ ရှောလု၏သမီးမေရပ်ကို၊ ဒါဝိဒ်အားပေးစား
ရသောအချိန်ရောက်သောအခါ၊ မေဟောလသိ
အမျိုးအဒြေလအားပေးစားလေ၏။
၂၀ ထိုနောက်ရှောလု၏သမီးမိခါလသည် ဒါဝိဒ်ကိုချစ်၏။
ထိုအကြောင်းကို လျှောက်သော အခါ၊ ရှောလု
၂၁ သည်အားရလျက်၊- ငါသည်ဒါဝိဒ်ကို ထောင်ချောက်
ဖြစ်၍၊ ဖိလိတ္တိ လူတို့ လက်သို့ ရောက်စေ ခြင်းငှါ၊
၂၂ ပေးစားမည်ဟု အကြံရှိ၏။- နန်းတော်သား၊ အ
မှုကိုခေါ်၍၊ သင်တို့သည်ဒါဝိဒ်နှင့် ထိတ်ဆိတ်
စွာ စကား ပြောရမည်မှာ၊ ရှင်ဘုရင်သည် သင့်
ကိုနှစ်သက်၍၊ ရှင်ဘုရင်၏ကျွန်အပေါင်းတို့သည်
သည်၊ ချစ်ကြ၏။ သို့ဖြစ်၍၊ ရှင်ဘုရင်၏ သမက်
တော်ဖြစ်ကောင်းပါ၏ဟုမှာထားသည့်အတိုင်း၊-
၂၃ ရှောလု၏ကျွန်တို့သည်ဒါဝိဒ်အားပြောကြ၏။ ဒါ
ဝိဒ်ကလည်း၊ ကျွန်ုပ်သည်အသရေမရှိသောဆင်း
ရဲသားဖြစ်လျက်နှင့်၊ ရှင်ဘုရင်၏ သမက်တော်
လုပ်ရသော အမှုသည်၊ သာ မညာ အမှု ထင် အ
၂၄ သော့လောဟုပြောဆို၏။-ရှောလုကျွန်တို့ကလည်း၊ ဒါ
ဝိဒ် သည် ဤ သို့ ပြော ဆို ပါ သည် ဟု လျှောက်
၂၅ လျှင်၊- သင်တို့သည် တဖန်ပြောရ မည်မှာ၊ ရှင်
ဘုရင် သည် ရန်သူ တို့၌ မိတ်တော် ပြေမည့် အ
ကြောင်း၊ ဖိလိတ္တိလူတို့၏ အရေဖျား တရာမှ တ
ပါး၊ အခြားသော ထက်ဖွဲ့ရာကို အလိုတော်မရှိ
ဟု မှာထား၏။ သို့ရာတွင်၊ ဒါဝိဒ်ကိုဖိလိတ္တိလူတို့
၂၆ လက်ဖြင့်ဆုံးစေမည်ဟုရှောလုအကြံရှိ၏။-ရှော
လုကျွန်တို့သည် ထိုစကားကို ဒါဝိဒ်အားပြန်ပြော
သောအခါ၊ ဒါဝိဒ်သည်ရှင်ဘုရင်၏သမက်တော်
ဖြစ်ခြင်းငှါအလိုရှိ၏။ ထိုကြောင့် မှိန်းချက်သော
၂၇ အချိန်မရောက်မှီ-ထ၍၊ မိမိလူတို့နှင့်အတူသွား၍
ဖြင့်၊ ဖိလိတ္တိလူနှစ်ရာတို့ကိုသတ်ပြီးမှ၊ ရှင်ဘုရင်
၏သမက်တော်ဖြစ်လိုသောငှါ၊ သူတို့အရေဖျား
ဖျားကိုယူခဲ့၍၊ စုံလင်သော အရေအတွက်အား
ဖြင့်၊ ရှင်ဘုရင်အား ဆက်လေ၏။ ရှောလုသည်
၂၈ သည်း၊ သမီးတော်မိခါလကိုပေးစားရ၏။-ထာဝ
ရဘုရားသည် ဒါဝိဒ်နှင့်အတူရှိတော်မူကြောင်း
ကိုရှင်၊ မိမိသမီးသည်ချစ်ကြောင်းကို ရှင်ရှောလု
၂၉ သည် မြင်၍၊- ကြောက် ရွံ့ သော မိတ် ရှိ ထမ်း
လျက်၊ အစည်အမြဲရန်ပြုံးဖွဲ့လေ၏။
၃၀ တဖန် ဖိလိတ္တိ မင်းတို့ သည် ချီသွားကြ၏။ ချီ
သွား ကြ သည် နောက်၊ ဒါဝိဒ် သည် ရှောလု၏
ကျွန်အပေါင်းတို့ထက်၊ သာ၍သတိပညာနှင့်ပြု
မူသဖြင့်၊ အလွန်ဂုဏ်အသရေနှင့်ပြည့်စုံ၏။

၁၉

၁ ထိုကြောင့် ရှောလု သည် ဒါဝိဒ်ကို သတ်စေ
ခြင်းငှါ၊ သားတော် ယောနသန်နှင့် မိမိ ကျွန်အ
၂ ပေါင်းတို့ကိုမှာထားလေ၏။-သားတော်ယောန

ထန်သည်ဒါဝိဒ်ကို အလွန်ချစ်၍၊ ငါ့အဘ ရှောလု
သည် သင့်ကို သတ်ခြင်းငှါရှာကြံ၏၊ သို့ဖြစ်၍၊
နံနက်တိုင်အောင်ကိုယ်ကိုသတိပြုသဖြင့်၊ ဆိတ်
၃ ကွယ်ရာအရပ်၌ ဝှန်းရှောင်၍နေပါလော့။- ငါ
ထွက်၍သင်ရှိရာတော၌၊ ငါ့အဘထံခစားလျက်၊
သင့်အမှု၌ စကားပြောမည်၊ တွေ့မြင်သမျှကို
သင့်အား ငါပြန်ကြားမည်ဟု ဒါဝိဒ်အား ပြော
၄ ဆို၏။-ယောနသန်သည်အဘရှောလုထံ၌၊ဒါဝိဒ်
ထက်မှာပြော၍၊ ရှင်ဘုရင်သည် ကျွန်တော်ဒါ
ဝိဒ်ကိုမပြစ်မှားပါစေနှင့်၊ သူသည် ကိုယ်တော်
ကိုမပြစ်မှားပါ၊ ကိုယ်တော်၌ အလွန် ကျေးဇူး
၅ ပြုပါပြီ။- မိမိအသက်ကိုမနှစ်မြောဘဲဖိလိတ္တိလူ
ကိုသတ်၍၊ ထာဝရဘုရားသည် ဣသရေလ အ
မျိုးတမျိုးလုံးအဘို့ကြီးစွာသောကယ်တင်ခြင်း
ကျေးဇူးကိုပြုတော်မူ၏၊ကိုယ်တော်သည်မြင်၍
ဝမ်းမြောက်ပါ၏၊ သို့ဖြစ်၍၊အကြောင်းမရှိဘဲ
ဒါဝိဒ်ကိုသတ်သဖြင့်၊ အဘယ်ကြောင့်အပြစ်မ
ရှိသောသူ၏ အသက်ကို သတ်သော အပြစ်သင့်
ရောက်စေပါချင်သနည်းဟု၊အဘရှောလုအားဆို
၆ သော်၊-ရှောလုသည်ယောနသန်၏စကားကိုနား
ထောင်၍၊ ထာဝရဘုရား အသက် ရှင်တော်မူ
သည်အတိုင်း၊ သူသည်အသေမခံရဟု ကျိန်ဆို
၇ လေ၏။- ယောနသန်သည် ဒါဝိဒ်ကိုခေါ်၍၊ အ
ကြောင်းအရာအလုံးစုတို့ကိုပြောပြီးမှ၊ ရှောလု
ထံသို့သွင်းပြန်၍၊ အထံတော်၌ အရင်နေသကဲ့
သို့နေရ၏။
၈ တဖန်စစ်မှုပေါ်ပြန်သော အခါ၊ ဒါဝိဒ်ထွက်
၍ ဖိလိတ္တိလူ တို့ကို တိုက်လျက်၊ ကြီးစွာသော
လုပ်ကြံခြင်းအားဖြင့်သတ်၍၊ သူတို့ သည်ပြေး
၉ ကြ၏။- ရှောလုသည်လှံတိုကိုကိုင်၍ နန်းတော်
၌ထိုင်စဉ်တွင်၊ ထာဝရဘုရား ထံတော်မှ၊ ဆိုး
သောဝိညာဉ်သက်ရောက်၍၊ ဒါဝိဒ်သည်စောင်း
၁၀ တီးလျက်နေသော အခါ၊- သူကိုလှံတိုနှင့် ထရံ
နားမှာထိုးစမ်းသော်လည်း၊ အထံတော်မှရှောင်
ပြေးသဖြင့်၊ လှံတိုသည် ထရံကို စူးလျက်နေ၏။
၁၁ ဒါဝိဒ်သည်ပြေး၍ ထိုညည့်၌လွတ်ရ၏။- ရှော
လုသည်သူကိုစောင့်၍၊ နံနက်အချိန်၌ သတ်စေ
ခြင်းငှါသူ့အိမ်သို့ လူကိုစေလွှတ်လေ၏၊ ဒါဝိဒ်မ
ယားမိခါလက၊ သင်သည်ယနေ့ညမှာကိုယ်အ
သက်ကို မကယ်မလျှင်၊ နက်ဖန်နေ့၌အသေခံရ
၁၂ ထိမ့်မည်ဟုဆိုလျက်၊-ဒါဝိဒ်ကိုပြတင်းပေါက်မှ
လျှော့ချ၍၊ သူသည်အလွတ်ထွက်ပြေးလေ၏။-
၁၃ မိခါလ သည် လည်း၊ တေရဖိ ရုပ်တုကို ယူ၍ ပု
တင်ပေါ်မှာ ထား ပြီးလျှင်၊ ဆိတ်မွေး ဖြင့် ရက်
သောကုလားကာနှင့်၊ ခေါင်းရင်း၌ ကာ၍
၁၄ စောင်နှင့်ခြုံထား၏။- ဒါဝိဒ်ကို ဖမ်းဆီး စေခြင်း
ငှါ၊ရှောလုစေလွှတ်သောလုလင်ရောက်သောအ
ခါ၊ဒါဝိဒ်နာ၍နေပါသည်ဟု မယားပြောဆို၏။-
၁၅ ရှောလုကလည်းသူကိုငါသတ်မည်အကြောင်း၊
ပုတင်နှင့်တကွဆောင်ခဲ့ကြဟု ဒါဝိဒ်ကိုအကြည့်
၁၆ အရှုစေလွှတ်၍- တမန်တို့သည် ဝင်ကြသော
အခါ၊ ဆိတ်မွေးဖြင့် ရက်သော ကုလားကာ နှင့်
ခေါင်းရင်း၌ ကာလျက်၊ ပုတင်ပေါ်မှာတေ
၁၇ ရပ်ရုပ်တုရှိပါသည်တကား။-ရှောလုကလည်း
ငါကိုလှည့်စား၍ အဘယ်ကြောင့် ငါ့ရန်သူကို
လွှတ်လိုက် သနည်း၊ ထိုသူ လွတ် အောင် ပြေးပါ
ပြီ တကားဟု၊ မိခါလ အား ပြော ဆိုလျှင်၊ မိခါ
လက၊ ငါသွားမည်၊ သို့မဟုတ်၊ သင့်ကိုငါသတ်
မည်ဟု သူပြောပါသည်ဟု၊ ရှောလု အား ပြန်
လျှောက်လေ၏။
၁၈ ထိုသို့ ဒါဝိဒ်ပြေး၍၊ ရှောလု ထက်မှ လွတ်သ
ဖြင့်၊ ရှမွေလရှိရာ၊ ရာမမြို့သို့ရောက်လေ၏၊ ရှော
လုပြုလေသမျှတို့ကိုပြန်ကြားပြီးမှ၊ ရှမွေလအဦ
၁၉ သွား၍ နာယုတ်ရွာမှာ နေ၏။- ဒါဝိဒ်သည် ရာမ
မြို့နယ်၊နာယုတ်ရွာမှာရှိကြောင်းကိုရှောလုအား
၂၀ ကြား၍- ဒါဝိဒ်ကိုဖမ်းဆီး စေခြင်းငှါ စေလွှတ်
ပြန်၏၊ ပရောဖက် အပေါင်း အသင်း တို့ သည် ပ
ရောဖက်ပြုလျက်၊ ရှမွေလ မှီရင်လျက် နေသည်
ကို၊တမန်တို့သည်တွေ့မြင်သောအခါ၊ဘုရားသ
ခင်၏ဝိညာဉ်တော်သည်၊ ရှောလု၏ တမန်တို့အ
ပေါ်မှာသက်ရောက်၍၊သူတို့သည်လည်းပရော
၂၁ ဖက် ပြုရ ကြ၏။- ထို သိ တင်းကို ရှောလု သည်
ကြားလျှင်အခြားသောသူတို့ကိုစေလွှတ်၍၊ သူ
တို့သည်လည်း ပရောဖက် ပြုရကြ၏၊ တတိယ
အကြိမ် ရှောလုသည် စေလွှတ်၍ ထိုအတူ ပြုရ
၂၂ ကြ၏။-ထိုအခါကိုယ်တိုင်ရာမမြို့သို့သွား၍၊ဆေ
ခုရွာ၌ ရှိသောရေတွင်းကြီးသို့ရောက်သော်၊ ရှ
မွေလနှင့်ဒါဝိဒ်တို့သည် အဘယ်မှာ ရှိသနည်း
ဟု မေးလျှင်၊ ရာမ မြို့နယ်၊ နာယုတ် ရွာမှာ ရှိပါ
၂၃ သည်ဟုကြားလျှောက်သော်၊-ထိုအရပ်သို့
သွား၍၊ဘုရားသခင်၏ဝိညာဉ်တော်သည်သူ့အ
ပေါ်မှာ သက် ရောက် သဖြင့်၊ နာ ယုတ် ရွာ တိုင်
၂၄ အောင်ပရောဖက်ပြုလျက်သွားလေ၏။-အဝတ်
တော်ကိုလည်း၊ ချွတ်၍၊ ရှမွေလရှေ့မှာ ထိုအတူ

ပရောဇတ်ပြုလျှက်၊ အဝတ်မပါဘဲ တနေ့နှင့်တ
ညလုံး ထဲလျှက် နေ၏။ ထိုကြောင့်၊ ရှောလု သည်
လည်း၊ ပရောဖက်တို့၌ ပါသလောဟု ဆိုရိုးရှိ
ကြ၏။

## ၂၀

၁ ဒါဝိဒ်သည်ရာမမြို့၊ နာယုတ်ရွာမှပြေး၍ယော
နာသန့်ထံသို့ရောက်ပြီးလျှင်၊ ကျွန်ုပ်သည်အဘယ်
သို့ ပြုဘိ သနည်း။ အဘယ် အပြစ် ရှိ သ နည်း။
ခမည်းတော်သည် ကျွန်ုပ်အသက်ကိုရှာမည်အ
ကြောင်း၊ ကျွန်ုပ်သည် အဘယ်ဒုစရိုက်ကိုပြုဘိ
၂ သနည်းဟု မေးသော်၊- ယောနာသန်က၊ ဤအမှု
ဝေးပါစေသော၊ သင်သည်မသေရ၊ ကျွန်ုပ်အဖ
သည်ကျွန်ုပ်အားမပြောဘဲ၊ အမှုအကြီးအငယ်
တစုံတခုကိုမျှမပြုတတ်၊ ဤအမှုမှန်လျှင်၊ ကျွန်ုပ်
မသိစေခြင်းငှါ အဘယ်ကြောင့်ဝှက်ထားမည်
၃ နည်း၊ ဤအမှုမမှန်ဘူးဟုပြန်ပြော၏။- ဒါဝိဒ်က
လည်း၊ ကျွန်ုပ်သည်သင်၏မိတ်ဆွေဖြစ်ကြောင်း
ကို သင်၏အဖသည်အမှန်သိသဖြင့်၊ ယောနာသန်
စိတ်မသာ ရှိမည် မိုးရိပ်၍၊ သူသည် ဤအမှုကို
မသိစေနှင့် ဟု ပြော ဆို ပါပြီ။ အကယ် စင်စစ်၊
ထာဝရဘုရား အသက်ရှင်တော်မူသည်အတိုင်း၊
သင့်အသက်လည်းရှင်သည်အတိုင်း၊ ကျွန်ုပ်နှင့်
သေခြင်းစပ်ကြားမှာ၊ အသွားတလှမ်းသာရှိပါ
၄ သည်ဟု အကျိန်နှင့်ဆို၏။ ယောနသန်ကလည်း၊
သင့်စိတ်နှစ်သုံးအလိုရှိသည်အတိုင်း၊ ကျွန်ုပ်ပြု
၅ ပါမည်ဟု ဒါဝိဒ်အား ဆိုလျှင်၊- ဒါဝိဒ်က၊ နက်
ဖန်နေ့သည် လဆန်းနေ့ ဖြစ်၍၊ ကျွန်ုပ်သည်ရှင်
ဘုရင်နှင့်အတူစားပွဲတော်နားမှာ မထိုင်ဘဲမနေ
သင့်။ သို့သော်လည်း၊ ကျွန်ုပ်သွား၍ သုံးရက်နေ့
ညဦး တိုင်အောင်၊ တောသို့ ပုန်းရှောင် လျှက်နေ
၆ ပါရစေ။- သင်၏ အဖသည် ကျွန်ုပ် မရှိသည် ကို
မှတ် မိလျှင်၊ ဒါဝိဒ်၏ အဆွေ အမျိုး အပေါင်း တို့
သည် နှစ်စဉ်ပွဲခံမြိုန်ရှိသောကြောင့်၊ မိမိနေရာ
ဗက်လင်မြို့သို့သွားရမည်အကြောင်း၊ ကြပ်ကြပ်
၇ အခွင့်ပန်ပါ၏ဟု လျှောက်ပါ။- အဖက ကောင်း
ပြီဟု ဆိုလျှင်၊ ကိုယ်တော်ကျွန်သည်ချမ်းသာရ
ပြီ။ သို့မဟုတ်၊ အမျက်ထွက်လျှင်၊ ဘေးပြုမည်
၈ အကြံရှိသည် ကို သိသော ကျပါ။- ကိုယ် တော်
ကျွန်၌ကျေးဇူးပြုပါ။ ထာဝရဘုရား၏ပဋိညာဉ်
ကိုကိုယ်တော်ကျွန်နှင့်ဖွဲ့ပါပြီ။ သို့သော်လည်း၊
ကျွန်ုပ်၌အပြစ်ရှိလျှင် ကိုယ်တော်ထိုင်သတ်ပါ။
အဘယ် ကြောင့် အဖထံသို့ ဆောင် သွား ရပါ

၉ မည်နည်း၊ ဟု ယောနသန်အား ဆို၏။- ယောန
သန်က ထိုသို့သောအမှုဝေးပါစေသော၊ ကျွန်ုပ်
အဖသည် သင်၌ ဘေးပြုမည်ဟု အကြံ ရှိသည်
ကိုကျွန်ုပ်သည်အမှန်သိလျှင်၊ သင့်အား မပြော
၁၀ ဘဲနေလိမ့်မည်လောဟု ဆို၏။- ဒါဝိဒ်ကလည်း၊
ခမည်းတော်သည်ကြမ်းတမ်းစွာပြန်ပြောလျှင်၊
ကျွန်ုပ် အား အဘယ် သူ ကြား ပြော လိမ့် မည်
၁၁ နည်းဟုယောနသန်အားမေးသော်၊-ယောနသန်
က၊ ငါတို့သည်တောသို့သွားကြကုန်အံ့ဟုဒါဝိဒ်
အား ဆိုလျက်၊ နှစ်ယောက် တို့သည် တောသို့
၁၂ ထွက် သွားကြ၏၊- ယောနသန်ကလည်း၊ ဣသ
ရေလအမျိုး၏ ဘုရား သခင် ထာဝရ ဘုရား အ
သက်ရှင်တော်မူသည်အတိုင်း၊ နက်ဖန်နေ့၊ သန်
ဖက်နေ့၌ ကျွန်ုပ်အဖကို စုံစမ်းသော အခါ၊ သူ
သည်ဒါဝိဒ်၌ ကောင်းသော အကြံရှိ၍၊ သင့်ကို
၁၃ ကျွန်ုပ်ပကြားလိုက်ဘဲနေသော်ငြား-သို့မဟုတ်၊
ကျွန်ုပ် အဖ သည်ဘေးပြုခြင်းငှါ အလိုရှိ၍၊ သင်
သည်ငြိမ်ဝပ်စွာသွားရမည်အကြောင်း၊ ကျွန်ုပ်
ထုတ်မပေး၊ မလွှတ်လိုက်ဘဲနေသော်ငြား၊ ထာဝ
ရဘုရားသည် ထိုမျှမကယောနသန်ကို ပြုတော်
မူစေသတည်း။ ထာဝရဘုရားသည် ကျွန်ုပ်အဖ
နှင့်အတူ ရှိခဲ့ပြီသကဲ့သို့၊ သင်နှင့် အတူ ရှိပါစေ
၁၄ သော၊- သင်သည်ကျွန်ုပ်အသက် ရှင်စဉ်အခါ
၌သာအသက်ချမ်းသာစေခြင်းငှါ ထာဝရဘုရား
၁၅ အလိုတော်အတိုင်းကျေးဇူးပြုရမည်မက၊-ထာ
ဝရဘုရားသည် ဒါဝိဒ်၏ ရန်သူအပေါင်းတို့ကို၊
မြေကြီးပေါ်က ပယ်ရှင်းတော်မူသောနောက်မှာ
လည်း၊ ကျွန်ုပ် အမျိုး အ နွယ် ၌ အစဉ် အမြဲ
ကျေးဇူးပြုရမည်ဟု ဒါဝိဒ်အား ဆိုသဖြင့်ငြား၊-
၁၆ သစ္စာပျက်လျှင်ဒါဝိဒ်၏ ရန်သူတို့အား ဖြင့်၊ ထာ
ဝရဘုရားအပြစ်ပေးတော်မူစေသတည်းဟု၊ ဒါ
ဝိဒ်၏အမျိုးအနွယ်နှင့် ပဋိညာဉ် ဖွဲ့သဖြင့်ငြား-
၁၇ ကိုယ် ဝိညာဉ်ကို ချစ်သကဲ့သို့ ဒါဝိဒ်ကိုချစ်သော
ကြောင့်၊ ချစ်သောစိတ်အားကြီး၍ ဒါဝိဒ်အားအ
၁၈ ထပ်ထပ်ကျိန်ဆို၏၊- တဖန်ယောနသန်က၊ နက်
ဖန်နေ့သည် လဆန်းနေ့ ဖြစ်၍၊ သင် ထိုင်ရာ အ
ရပ်လပ် လျှင်၊ သင် မရှိ ကြောင်း သင်ရှား လိမ့်
၁၉ မည်။-သင်သည်သုံးရက်နေပြီးမှအလျှင်အမြန်
ဆင်း သွားသဖြင့်၊ အရင်အမှု ရှိစဉ်၊ ပုန်းရှောင်
၍နေရာအရပ်သို့ရောက်လျှင်၊ ဧဇေလကျောက်
၂၀ နားမှာ နေရမည်။- ကျွန်ုပ်သည်လည်း စော်ကို
ပြစ်ထန် ပြု၍၊ ထိုကျောက် နားသို့ မြှား သုံးချက်

၂၁ ပြစ်မည်။-မြှားတို့ကိုသွား၍ရှာချေဟုလူငယ်ငေး
ကိုစေခိုင်းသောအခါ၊မြှားတို့သည်နင်နှင့်အနားမှာ
ရှိ၏၊ကောက်တော့ဟု သေချာစွာပြောလျှင်လာ
ခဲ့ပါ၊ထာဝရဘုရားအသက် ရှင်တော်မူသည်အ
၂၂ တိုင်းဘေးမရှိ၊ချမ်းသာရပြီ၊- သို့မဟုတ်၊မြှား
တို့သည်နင့်ကိုလွန်ပြီဟု၊ လုလင်အား ဆိုလျှင်
သွားလော့၊ ထာဝရဘုရားသည် သင့်ကို လွှတ်
၂၃ လိုက်တော်မူ၏၊-ထရှ ငါတို့နှစ်ယောက် ပြော
သောအမှု၌ကား၊ထာဝရဘုရားသည်၊သင်နှင့်
ငါနှစ်ပါးကြားမှာအစဉ်မြဲရှိတော်မူစေသတည်း
ဟုဒါဝိဒ်အားပြောဆိုလေ၏။
၂၄ ဒါဝိဒ်သည်တော၌ပုန်းရှောင်၍နေ၏၊လဆန်း
နေ့ရောက်မှ၊ရှင်ဘုရင်သည်စားတော်ခေါ်ခြင်း
၂၅ ငှါထိုင်၏၊-ထုံးစံအတိုင်း ထရံနားမှာရှင်ဘုရင်
ထိုင်လျှင်၊ ယောနသန်ထ၍ အာဗနာသည်ရှော
လုအနားမှာထိုင်၏၊ ဒါဝိဒ်၏ နေရာထိုင်ရာသည်
၂၆ လပ်၏။-သို့ရာတွင် ရှောလုက၊ အကြောင်းတစုံ
တခုရှိလိမ့်မည်၊သူသည်မစင်ကြယ်၊အကယ်၍
သူသည်မစင်ကြယ်ဟုထင်မှတ်၍၊ထိုနေ့၌တိတ်
၂၇ ဆိတ်စွာနေ၏။-နက်ဖန်နေ့၊ လဆန်းနှစ်ရက်နေ့
၌၊ဒါဝိဒ်၏နေရာထိုင်ရာသည်လပ်သော့ကြောင့်
ရှောလုက၊ယေရှဲသားသည်စားပွဲတော်သို့မနေ့
ကမလာ၊ယနေ့လည်းမလာဘဲအဘယ်ကြောင့်
နေသနည်းဟု၊ သားတော်ယောနသန်ကိုမေး
၂၈ လျှင်၊- ယောနသန်က၊ ဒါဝိဒ်သည် ဗက်လင်မြို့
သို့သွားရမည်အကြောင်း၊ကြပ်ကြပ်အခွင့်ပန်
၂၉ လျက်၊- အကျွန်ုပ် သွားရသော အခွင့်ကို ပေးပါ
လော့၊ အကျွန်ုပ် ၏ဆွေ အမျိုး တို့သည်၊ ထိုမြို့၌
ယဇ်ပွဲကို ဆောင် ကြ ပါ၏၊ အကျွန်ုပ် အစ်ကို
လည်း မှာလိုက် ပါပြီ၊ မိတ် တော် နှင့် တွေ့သည်
မှန်လျှင်၊ အကျွန်ုပ် သွား၍ အစ်ကိုတို့ကို မြင်ရ
မည်အကြောင်း၊ အခွင့်ပေးပါလော့ဟုတောင်း
ပန်ပါ၏၊ ထိုကြောင့် စားပွဲတော်သို့ မလာပါဟု
၃၀ ရှောလုအား လျှောက်သော်၊- ထိုအခါရှောလု
သည် ယောနသန်ကို အမျက်ထွက်၍၊ မှောက်မ
ထားသော မိန်းမ၏ သား၊ သင် သည် ကိုယ်တိုင် အ
ရှက် ကွဲသည် တိုင် အောင်၎င်း၊ သင့် အမိ အဝတ်
ကျွတ်၍အရှက်ကွဲသည်တိုင်အောင်၎င်း၊ ယေရှဲ
၏ သား၊ ထ က် ၌ နေသည်ကို ငါမသိ သလော၊
၃၁ ယေရှဲ၏ သားသည် မြေကြီးပေါ်မှာ အသက်ရှင်
သည်ကာလပတ်လုံး၊ သင် နှင့်သင်၏နိုင်ငံမတည်
ရ။ ယခုစေလွှတ်၍သူ့ကိုခေါ်ခဲ့၊ သူသည်အသေ

၃၂ ခံရမည်ဟု ဆိုလျှင်-ယောနသန်က၊ ဒါဝိဒ်သည်
အဘယ် ကြောင့် အသေခံရမည်နည်း၊ အဘယ်
သို့ ပြုဘိ သနည်းဟု၊ အဖ ရှောလု အား မေးလေ
၃၃ သော်၊- ရှောလုသည် ယောနသန်ကို မှန်စေခြင်း
ငှါလှံတိုကိုထက်လွှတ်၍ ထိုးလေ၏၊ သို့ဖြစ်၍၊
အဖ သည် ဒါဝိဒ်ကို သတ်မည် အကြံရှိ သည်ကို
၃၄ ယောနသန်သည် သိသဖြင့်- အမျက် ထွက် ၍၊
ထိုလဆန်း နှစ်ရက်နေ့၌ အစာ မစားဘဲ ထသွား
၏၊ မိမိအဖ သည် ဒါဝိဒ်ကိုအရှက်ခွဲသော့ကြောင့်၊
ဒါဝိဒ်အတွက် ညှိုးငယ်သောမိတ်ရှိ၏။
၃၅ နံနက် ရောက်မှ၊ ဒါဝိဒ် နှင့် ချိန်းချက်သောအ
ချိန် ၌၊ ယောနသန် သည် လူကလေး ကို ခေါ်၍
၃၆ တောသို့ သွား၏၊- လူကလေးအားလည်း၊ ပြေး
တော့၊ ငါပြစ်သောမြှားတို့ကိုရှာတော့ဟု ဆို၍၊
လူကလေး သည် ပြေးသော အခါ သူ ကို လွန်
၃၇ အောင် မြှားတစင်းကို ပြစ်လေ၏။- ယောနသန်
ပြစ်သောမြှားကျရာအရပ်သို့ လူကလေးရောက်
သောအခါ၊ ယောနသန်က၊ မြှားတစင်းသည်နင့်
၃၈ ကိုလွန်ပြီ မဟုတ်လော၊- ကြိုးစား၍ အလျင်အ
မြန်ပြေးတော့၊ မနေနှင့်ဟု လူကလေးနောက်မှာ
ဟစ်လေ၏၊ လူကလေးသည်လည်း၊ မြှားတို့ကို
၃၉ ကောက် ၍ မိမိ သခင် ထံသို့ ပြန် လာ ၏။- သို့ရာ
တွင်၊ လူကလေး သည် ထို အမှု ကို နား မလည်။
၄၀ ယောနသန် နှင့်ဒါဝိဒ်သာ နားလည်ကြ၏။-ယော
နသန်သည်မိမိလက်နက်တို့ကိုလူကလေး၌အပ်
၄၁ ၍၊ မြို့ထဲသို့ယူသွားတော့ဟုဆို၏၊- လူကလေး
သွားသော နောက်၊ ဒါဝိဒ်သည် တောင် ဖျက်နှာ
အရပ်က ထ၍၊ မြေပေါ်မှာ ပြပ် ဝပ် လျက် သုံး
ကြိမ် တိုင်အောင် ဦးညွှတ် ပြီးလျှင်၊ သူတို့သည်
တယောက်ကိုတယောက် နမ်းလျက်၊ ဖျက်ရည်
ကျလျက်၊ ဒါဝိဒ်သည်သာ၍ ငိုသည်တိုင်အောင်
၄၂ ငိုကြ၏၊-ယောနသန်ကလည်း၊ ထာဝရဘုရား
သည်သင်နှင့်ကျွန်ုပ်စပ်ကြား၊ သင့်အမျိုးအနွယ်
နှင့်ကျွန်ုပ် အမျိုးအနွယ် စပ်ကြားမှာ၊ အစဉ်
အမြဲရှိတော်မူစေသတည်းဟူ၍၊ ထာဝရဘုရား
၏ နာမ တော် ကို တိုင် တည် သ ဖြင့်၊ ငါတို့ နှစ်
ယောက်သည် ကျိန်ဆိုကြသည်ကို ထောက်၍၊
ငြိမ် ဝပ်စွာသွားတော့ဟု ဒါဝိဒ်အားဆိုလျှင်၊ဒါ
ဝိဒ်သည်ထသွား၍၊ ယောနသန်လည်း မြို့ထဲသို့
ဝင်လေ၏။

## ၂၁

၁ ဒါဝိဒ်သည် ယဇ်ပုရောဟိတ် အဟိမလက်ရှိ

ရာနော့မြို့သို့ ရောက်၍၊ အဟိမလက်သည် ဒါ
ဝိဒ်နှင့်တွေ့သောအခါကြောက်၍၊ သင်သည်လူ
တယောက်မျှ မပါဘဲ အဘယ် ကြောင့် တကိုယ်
၂ တည်းလာသနည်းဟုမေးသော်၊- ဒါဝိဒ်က၊ ရှင်
ဘုရင် အမှုတော် တခုကို အပ်၍၊ ငါစေခိုင်းမှာ
ထားသောအမှုကို အဘယ် သူမျှ မသိစေ နှင့်ဟု
မိန့်တော် မူသော ကြောင့်၊ ကျွန်ုပ်တို့ကို ဤမည်
သော အရပ်၊ ဤမည် သော အ ရပ် ၌ ဆိုင်း လင့်
၃ စေ ခြင်း ငှါ အရင်စေ လွှတ် လေ ပြီ၊- သို့ ဖြစ် ၍
ကိုယ်တော်ထက်၌ရှိသောမုန့် ငါးလုံးကိုသော်
၎င်း၊ တွေ့သမျှကိုသော်၎င်း၊ ကျွန်ုပ်ထက် သို့ အပ်
ပေး ပါဟု၊ ယဇ်ပုရော ဟိတ် အဟိမလက်အား
၄ တောင်း၏၊- ယဇ်ပုရော ဟိတ်က၊ ငါ့ထက်၌ လူ
တိုင်းစားရသောမုန့်မရှိ၊လုလင်တို့သည်မိန်းမကို
သာရှောင်လျှင်၊သန့်ရှင်းသောမုန့်ရှိသည်ဟုဒါ
၅ ဝိဒ်အားဆို၏၊- ဒါဝိဒ်ကလည်း၊ ကျွန်ုပ်ထွက်က
တည်းက၊ အဘယ် သူမျှ မိန်းမ နှင့် မပေါင်းလေ၊
လုလင် တန်ဆာတို့သည် သန့်ရှင်း ပါ၏၊ ထိုမုန့်
လည်း၊ လူတိုင်းစား ရသော မုန့်ကဲ့သို့ ဖြစ်ပါ၏၊
အကြောင်းမူကား၊ ယနေ့ သန့်ရှင်းသော မုန့်သစ်
ကိုတင်ထားလျက် ရှိပါ၏ဟု၊ ယဇ်ပုရောဟိတ်
၆ အား ပြန်ပြော သော်၊- ယဇ်ပုရောဟိတ် သည်
ရှေ့တော်မုန့်မှတပါး အခြားသော မုန့်မရှိသော
ကြောင့်၊ သန့် ရှင်း သော မုန့်ကို ပေး၏၊ ထို ရှေ့
တော်မုန့်အစား၌၊ မုန့်သစ်ကိုတင်ထားစဲ့သော
ငှါ၊ ထာဝရဘုရားရှေ့တော်မှ နုတ်ပယ် နှင့်ပြီ၊-
၇ ထိုနေ့၌ အမှုတော်ထမ်း အဝင်၊ သိုးတော် ထိန်း
ချုပ်၊ ဧဒုံအမျိုးသား၊ ဒေါဂ အမည်ရှိသော သူ
သည်ထာဝရ ဘုရားရှေ့တော်၌ စောင့် နေရ၏၊-
၈ ဒါဝိဒ် က ထည်း၊ ကိုယ် တော် ၌ ထား လှံ ရှိ သ
လော၊အမှုတော်ကိုအလျင်အမြန်ဆောင်ရသော
ကြောင့်၊ ထားအစရှိသောလက်နက်တစုံတခုမျှ
၉ မပါဟု၊အဟိမလက်အားပြောလေသော်၊-ယဇ်
ပုရောဟိတ်က၊ ဧလာချိုင့်၌သင်လုပ်ကြံ ခဲ့သော
ဖိလိတ္တိ လူ ဂေါလျတ်၏ ထားသည်၊ အဝတ် နှင့်
ထုပ်ရစ်လျက်သင်တိုင်းတော် နောက်မှာရှိ၏၊ယူ
ချင်လျှင်ယူတော့၊ အခြားသော ထားမရှိဟုဆို
လျှင်၊ ဒါဝိဒ်က၊ ထိုထားနှင့် တူသော ထားမရှိ၊
ပေးပါတော့ဟု ဆို၏၊
၁၀ ထိုနေ့၌၊ ဒါဝိဒ်သည်ရှောလုကိုကြောက်သော
ကြောင့် ထ၍၊ ဂါသ ပင်း ကြီး အာခိတ် ထံ သို့
၁၁ ပြေး သွား၏၊- အာခိတ် ...... ကျွန် တို့က၊
ဒါဝိဒ် သည် ဤ ပြည်ရှင် ဘုရင် ဖြစ် သည် မ
ဟုတ်လော၊ ရှောလုအထောင်ထောင်၊ ဒါဝိဒ် အ
သောင်း သောင်း သတ်လေပြီ တကားဟု၊ ဤသူ
ရှေ့ မှာ အလှည့် လှည့် က လျက် သီခြင်း ဆိုကြ
၁၂ သည်မဟုတ်လောဟုလျှောက်ကြ၏၊-ထိုစကား
ကိုဒါဝိဒ်သည်မှတ်မိ၍၊ ဂါသမင်းကြီး အာခိတ်
၁၃ ကို အ လွန် ကြောက် သော ကြောင့်၊- ရူး သွပ်
ဟန် ဆောင် ၍၊ သူ တို့ ရှေ့မှာ အ ရူး ကဲ့ သို့ ပြု
လျက်၊ တံခါး ရွက် ပေါ်၌ ရေး သား ၍၊ မိမိ တံ
၁၄ တွေးကို မုဆိတ်တွင် ယိုစေ၏၊- အာခိတ်မင်းက
လည်း၊ကြည့်ကြလော့၊ဤသူသည်အရူးဖြစ်၏၊
အ ဘယ် ကြောင့် ငါ ထံ သို့ သွင်း ကြ သ နည်း၊-
၁၅ အရူးကို ငါအသုံးလိုသည်ဟု သင်တို့သည် ထင်
လျက်၊ ငါ့ရှေ့မှာ အ ရူးလုပ် စေ ခြင်းငှါ၊ ဤသူကို
သွင်း ကြသလော၊ ဤ သူ သည် နန်း တော် ထဲသို့
ဝင်ရမည်လောဟု ကျွန်တို့အားဆို၏၊

၂၂

၁ ဒါဝိဒ်သည် ထိုအရပ်မှ ပြေး၍၊ အဒုလံ ဥမှင်
သို့ ဘေး လွတ်လျက် ရောက် လေ ၏၊ သူ့အစ်ကို
များ၊ အဆွေ အမျိုးများ အပေါင်းတို့သည်ကြား
၂ လျှင်သူထံသို့သွားကြ၏၊- အမှုရောက်သောသူ၊
ကြွေး တင်သောသူ၊ စိတ်ညစ်သောသူ အပေါင်း
တို့ သည်၊ သူထံမှာ စုဝေးကြ၍ လူလေးရာခန့်ရှိ
၃ သဖြင့်၊ဒါဝိဒ်သည်သူတို့ကို အုပ်ရ၏၊-ထိုအရပ်
မှမောဘပြည်၊ မိဇပါ မြို့သို့ သွား၍၊ မောဘ ရှင်
ဘုရင် အား၊ ဘုရားသခင်သည် ကျွန်တော်၌၊ အ
ဘယ်သို့ပြုတော်မူမည်ကိုကျွန်တော်မသိဘဲနေ
စဉ် တွင်၊ ကျွန် တော် မိဘ သည် ထွက် လာ ၍၊
ကိုယ်တော်ထံ၌နေရသော အခွင့်ကိုပေးတော်မူ
၄ ပါဟု လျှောက်သဖြင့်၊- မောဘ ရှင်ဘုရင်ထံသို့
သွင်း၍၊ ဒါဝိဒ်သည်ခိုင်ခံ့သော ဥမှင်၌ နေသည်
ကာလပတ်လုံး၊ မိဘတို့သည်မောဘ ရှင်ဘုရင်
၅ ထံမှာနေကြ၏၊- ဂါဒ် ပရောဖက် ဂါဒ်က၊ ခိုင်ခံ့
သောဥမှင်၌မနေနှင့်၊ ထွက်၍ ယုဒပြည်သို့သွား
လော့ဟု ဒါဝိဒ် အား ဆို သည် အတိုင်း၊ ဒါဝိဒ်
သွား၍ဟာရက်တော၌နေ၏၊
၆ ထို အခါ ရှောလု သည်၊ ဂိဗာ မြို့၌ ကုန်း ပေါ်
တွင်၊ သစ်ပင်အောက်မှာ လှံကိုကိုင်လျက်၊ ကျွန်
အပေါင်းတို့သည် ခြံရံလျက် နေစဉ်တွင်၊ ဒါဝိဒ်
နှင့် သူ ၏ လူတို့ သည် ပေါ်ကြောင်း ကို ရှောလု
၇ ကြား၍၊- ထိုဗယာမိန် အမျိုးသားတို့၊ ယေရှဲ၏
သားသည်ထယ်များ၊ စပျစ်ဥယျာဉ်များကို၊ထင်

ထိုမြို့သမျှ၌ ဝေပေး နိုင်သလော၊ သင်တို့ မှူးသမျှ
ကိုလူတထောင်အုပ်၊ တရာအုပ်အရာ၌ခန့်ထား
၈ နိုင်အံ့လော။ ထိုသို့ပြု နိုင်သောကြောင့်၊ သင်တို့
အပေါင်းသည် တော်လှန်၍သင်းဖွဲ့ကြသလော။
ငါ့သား သည် ယေရှဲ၏ သားနှင့် မိဿဟာ ယဖွဲ့
ကြောင်းကို တယောက် မျှမပြော၊ ငါ့အတွက်တ
ယောက် မျှ ဝမ်း မနည်း၊ ငါ့ကျွန် သည် ယနေ့ပြု
သည်အတိုင်း၊ ငါ့ကိုချောင်းမြောင်းစေခြင်းငှါ၊ ငါ
့သားနှိုးဆော် ကြောင်းကို တယောက်မျှ မပြော
ဘဲနေကြသည်တကားဟု၊ အခြံအရံတို့အားဆို
၉ လေသော်၊ - ရှောလု၏ကျွန်အုပ်၊ ဧဒုံအမျိုးသား
ဒေါဂက၊ ယေရှဲ၏သားသည် အဟိတုပ်၏ သား
အဟိမလက် ရှိ ရာ နောဗမြို့သို့ ရောက် ကြောင်း
၁၀ ကိုကျွန်တော်မြင်ပါ၏၊ - အဟိမလက်သည်ယေ
ရှဲ၏သားအဘို့ထာဝရဘုရားထံတော်၌မေးမြန်း
၍စားစရိတ်ကိုင်၊ ဖိလိတ္တိလူဂေါလျတ်၏ ထား
၁၁ ကိုင် ပေးပါ၏ ဟု ကြား လျှောက် လျှင်၊ - ရှင်
ဘုရင်သည် အဟိတုပ်၏သားယဇ်ပရောဟိတ်အ
ဟိမလက် နှင့်သူ၏အဆွေအမျိုးတည်းဟူသော
နောဗမြို့၌နေသောယဇ်ပရောဟိတ်အပေါင်းတို့
ကိုခေါ်၍၊ သူတို့သည်အထံတော်သို့ရောက်လာ
၁၂ ကြ၏၊ - ရှောလု က လည်း၊ အဟိတုပ်၏ သား၊
နားထောင်လော့ဟု ဆိုလျှင်၊ အဟိမလက်က၊ အ
၁၃ ကျွန်ုပ်ရှိပါသည် သခင်ဟုလျှောက်၏၊ - ရှောလု
ကလည်း၊ သင်နှင့်ယေရှဲ၏ သားသည် အဘယ်
ကြောင့်တော်လှန်၍သင်းဖွဲ့ကြသနည်း။ သူသည်
ယနေ့ပြုသည်အတိုင်း၊ ငါ့ကိုပုန်ကန်စေခြင်းငှါ
သင်သည် မုန့်နှင့် ထားကိုပေး၍၊ သူ့အဘို့ ဘုရား
သခင်ထံတော်၌မေးမြန်းပြီတကားဟု ဆိုသော်-
၁၄ အဟိမလက်က၊ ကိုယ်တော်၏ ကျွန်တို့တွင်၊ ဒါ
ဝိဒ်ကဲ့သို့ အဘယ်သူသည် သစ္စာရှိသနည်း။ သ
မက်တော်ဖြစ်ပါ၏၊ စေခိုင်းတော်မူသောသူ၊ နန်း
၁၅ တော်၌အသရေရှိသောသူဖြစ်ပါ၏၊ - ထိုကာလ
၌၊ အကျွန်ုပ် သည် ဒါဝိဒ် အဘို့ ဘုရား သခင် ထံ
တော်၌မေးမြန်းစ ပြုသလော၊ ထိုအမှုဝေးပါစေ
သော၊ ရှင်ဘုရင်သည်ကိုယ်တော်ကျွန်နှင့်ကျွန်
တော်၏အဆွေအမျိုးတစုံတယောက်၌မျှအပြစ်
တင်တော်မမူပါနှင့်၊ ကိုယ်တော်ကျွန်သည်၊ ဤ
အမှုကိုအကြီးအငယ်အားဖြင့်မျှမသိပါဟု၊ ရှင်
၁၆ ဘုရင်အား လျှောက် လေ၏၊ - ရှင်ဘုရင်က၊ အ
ဟိမလက်၊ သင်နှင့်သင်၏အဆွေအမျိုးအပေါင်း
တို့ သည် ဧကန် အမှန် အသေ ခံရ မည်ဟု ဆို
၁၇ လျက်၊ - ထာဝရ ဘုရား၏ ယဇ် ပရောဟိတ် တို့
သည် ဒါဝိဒ်ဘက်မှာနေ၍၊ သူပြေး ကြောင်းကို
သိ သော် လည်း၊ ငါ့အား မကြား မပြော သော
ကြောင့်၊ သူတို့ကိုဖမ်း၍သတ်ကြဟု၊ ခြံရံလျက်
ရှိသော ခြေသည် တို့အား အမိန့် တော် ရှိ သော်
လည်း၊ ရှင်ဘုရင်၏ကျွန်တို့သည်၊ ထာဝရဘုရား
၏ယဇ်ပရောဟိတ်တို့ကိုမလုပ်ကြံဘဲနေကြ၏။-
၁၈ တဖန် ရှင်ဘုရင်က၊ သင်သည် ဖမ်း၍ ယဇ်ပ
ရောဟိတ်တို့ကိုလုပ်ကြံလော့ဟု ဒေါဂအားမိန့်
တော်မူသည်အတိုင်း၊ ဧဒုံအမျိုးသားဒေါဂသည်
ဖမ်း၍၊ ပိတ် သင် တိုင်း ကို ဝတ် သော ယဇ်ပ
ရောဟိတ် ရှစ် ဆယ် ငါး ပါး တို့ကို လုပ် ကြံ သ
၁၉ မြင့်၊ ထိုနေ့၌သတ်လေ၏၊ - ယဇ်ပရောဟိတ်မြို့
သော နောဗ မြို့ကိုလည်း တိုက် ၍၊ ယောက်ျား၊
မိန်းမ၊ သူငယ်၊ နို့နို့စို့၊ နွား၊ မြည်း၊ သိုးတို့ကိုထား
၂၀ နှင့်လုပ်ကြံလေ၏၊ - အဟိတုပ်၏သားဖြစ်သော
အဟိမလက်၏သားတို့တွင်၊ အဗျာသာအမည်ရှိ
သောသူတယောက်သည်လွတ်၍၊ ဒါဝိဒ်ရှိရာသို့
၂၁ ပြေးလေ၏၊ - ထာဝရဘုရား၏ ယဇ်ပရောဟိတ်
တို့ကိုရှောလုသတ်ကြောင်းကို၊ အဗျာသာသည်
၂၂ ဒါဝိဒ်အားကြားပြောသောအခါ - ဒါဝိဒ်က၊ ဧဒုံ
အမျိုးသား ဒေါဂသည် ရှောလုအား ပြော မည်
ဟု၊ သူကိုတွေ့သောနေ့၌ ငါရိပ်မိ၏၊ ငါသည်သင်
၏ အဆွေ အမျိုး အပေါင်းတို့ကို သေစေခြင်းငှါ
၂၃ ပြုမိပါပြီတကား။ - ငါနှင့်အတူနေပါလော့၊ မစိုး
ရိမ်နှင့်၊ ငါ့အသက်ကို ရှာသောသူသည် သင့်အ
သက်ကိုရှာ၏၊ ငါနှင့်အတူ နေလျှင် လွတ်
ပါလိမ့်မည်ဟုအဗျာသာအားပြောဆို၏။

## ၂၃

၁ ဖိလိတ္တိလူတို့သည်ကိလမြို့ကိုတိုက်၍၊ ကောက်
နယ်တလင်းတို့ကိုလုယူကြောင်းကို ဒါဝိဒ်သည်
၂ ကြားသော အခါ - အကျွန်ုပ်သည် ထိုဖိလိတ္တိလူ
တို့ကိုသွား၍ လုပ်ကြံရပါမည်လောဟု၊ ထာဝ
ရဘုရားအားမေးလျှောက်လျှင်၊ ထာဝရဘုရား
ကသွားလော့၊ ဖိလိတ္တိလူတို့ကိုလုပ်ကြံ၍၊ ကိလ
မြို့ကိုကယ်တင်လော့ဟု ဒါဝိဒ်အား မိန့်တော်မူ
၃ ၏၊ - ဒါဝိဒ်၏ လူတို့ က လည်း၊ ငါတို့သည် ယုဒ
ပြည်၌ပင်ကြောက်ကြ၏၊ ထိုမျှမက ကိလမြို့သို့
ရောက်၍၊ ဖိလိတ္တိဗိုလ်ခြေတို့နှင့်စစ်ပြိုင်သောအ
ခါ သာ၍ ကြောက်စရာရှိပါသည် တကားဟုဆို
၄ ကြ၏၊ - တဖန်ဒါဝိဒ်သည်ထပ်၍ ထာဝရဘုရား
အားမေးလျှောက်လျှင်၊ ထာဝရဘုရားက၊ ထ၍

ကိလမြို့၌ သွားစေ၊ ဖိလိတ္တိလူတို့ကို သင့်
၅ လက်၌ငါအပ်မည်ဟုမိန့်တော်မူသည်အတိုင်း၊-
ဒါဝိဒ်နှင့် သူ၏လူတို့သည် ကိလမြို့သို့ သွား၍ ဖိ
လိတ္တိလူတို့နှင့် တိုက်သဖြင့်၊ ထိုသူတို့၏တိ
ရိစ္ဆာန်များကိုလု၍၊ သူတို့ကိုကြီးစွာသောလုပ်
ကြံခြင်းအားဖြင့် သတ်ကြ၏၊ ထိုသို့ဒါဝိဒ်သည်
၆ ကိလမြို့ကို ကယ်တင်လေ၏။- အဟိမလက်၏
သား အဗျာသာသည်၊ ဒါဝိဒ်ရှိရာ ကိလမြို့သို့
ပြေး လာသော အခါ သင်တိုင်းတော်ပါလျှက်
ရောက်လာသတည်း။
၇ ဒါဝိဒ်သည်ကိလမြို့သို့ရောက်ကြောင်းကိုရှော
လုသည် ကြားလျှင်၊ ဘုရားသခင်သည် သူ့ကိုင
လက်သို့အပ်တော်မူပြီ၊ တံခါးနှင့်ကန့်လန့်ရှိ
ရှိသော မြို့ထဲသို့ဝင်သဖြင့်၊ အချုပ်ခံလျှက်နေရ
၈ သည်ဟုဆိုလျှက်-ကိလမြို့သို့စစ်ချီ၍၊ ဒါဝိဒ်နှင့်
သူ၏လူတို့ကို ဝိုင်းထားခြင်းငှါ၊ ဗိုလ်လုအပေါင်း
၉ တို့ကိုစုဝေးစေ၏။- ရှောလုသည်မကောင်းသော
အကြံနှင့်ကြံစည်သည်ကိုဒါဝိဒ်သည်သိ၍၊ယဇ်
ပုရောဟိတ်အဗျာသာအား၊ သင်တိုင်းတော်ကို
၁၀ ယူခဲ့ပါဟုဆို၏။- ထိုအခါဒါဝိဒ်က၊ ဣသရေလ
အမျိုး၏ ဘုရားသခင်ထာဝရဘုရား။ ရှောလု
သည် ကိလမြို့သို့လာ၍၊ ကိုယ်တော်၏ကျွန်အ
တွက် မြို့ကိုဖျက်ဆီးမည်ဟု အကြံရှိသည်ကို ဆက်
၁၁ ဆက် ကြားပါ၏။- ကိလမြို့သားတို့သည်၊ အ
ကျွန်ုပ်ကိုသူ၏လက်၌ အပ်ကြပါလိမ့်မည်လော၊
ကိုယ်တော်၏ကျွန်ကြားသည်အတိုင်း၊ ရှောလု
သည် လာပါလိမ့်မည်လော၊ ဣသရေလ အမျိုး
၏ဘုရားသခင် ထာဝရဘုရား၊ ကိုယ်တော်၏
ကျွန်အား၊ အမိန့်ရှိတော်မူမည် အကြောင်း၊
တောင်းပန်ပါ၏ဟုမေးလျှောက်သော်၊ ထာဝရ
ဘုရားက၊ရှောလုသည်လာလိမ့်မည်ဟုမိန့်တော်
၁၂ မူ၏။- တဖန်ဒါဝိဒ်က၊ ကိလမြို့သားတို့သည်အ
ကျွန်ုပ်နှင့် အကျွန်ုပ်၏ လူတို့ကို ရှောလုလက်သို့
အပ်ကြပါလိမ့်မည်လောဟုမေးလျှောက်သော်၊
ထာဝရဘုရားက၊အပ်ကြလိမ့်မည်ဟုမိန့်တော်
၁၃ မူ၏။-ထိုအခါဒါဝိဒ်သည်ခြောက်ရာခန့်ရှိသော
မိမိလူတို့နှင့်ထ၍၊ကိလမြို့မှထွက်ပြီးလျှင်၊သွား
နိုင်ရာအရပ်ရပ်သို့သွားကြ၏၊ဒါဝိဒ်သည်ကိလ
မြို့မှအလွတ်ပြေးကြောင်းကို၊ရှောလုသည်ကြား
၁၄ ၍ ကိုယ်တိုင်မသွားဘဲနေ၏။- ဒါဝိဒ်သည် ဇိဖ
တောင် အစရှိသော တောကြို တောင်ကြား တို့၌
နေ၍၊ရှောလုသည်နေ့တိုင်းရှာသော်လည်း၊သူ
၏လက်၌ ဒါဝိဒ်ကိုဘုရားသခင် အပ်တော်မမူ။-
၁၅ တရံရောအခါ ဒါဝိဒ်သည် ဇိဖတောရပ်၌ ရှိ၍၊
သူ၏အသက်ကိုသတ်မည်ဟု၊ရှောလုလာသည်
၁၆ ကိုသိသောအခါ- ရှောလု၏သား ယောနသန်
သည် ထ၍၊ ဒါဝိဒ် ရှိရာ တောရပ်သို့ သွား ပြီး
လျှင်၊ ဘုရားသခင်၌ မိတ်ဆွေ အားကြီးစေခြင်းငှါ
၁၇ ဆောက်မလျှက်- မစိုးရိမ်နှင့်၊သင်သည်ကျွန်ုပ်
အဖ ရှောလု၏ လက်မှ လွတ်၍ ဣသရေလ ရှင်
ဘုရင် ဖြစ်လိမ့်မည်၊ ကျွန်ုပ် သည်လည်း၊ သင့်
နောက်မှာအရာကြီးလိမ့်မည်၊ထိုသို့ဖြစ်မည်ကို
၁၈ ကျွန်ုပ်အဖ ရှောလု သိသည်ဟု ဆိုသဖြင့်၊- ထို
သူနှစ်ယောက်တို့သည်ထာဝရဘုရားရှေ့တော်
၌ ပဋိညာဉ်ဖွဲ့ကြပြီးမှ၊ ဒါဝိဒ်သည်တောရပ်၌
နေ၍၊ ယောနသန်သည်မိမိအိမ်သို့ သွား၏။
၁၉ တဖန် ဇိဖသားတို့သည် ရှောလုရှိရာ ဂိဗာမြို့
သို့လာ၍၊ ဒါဝိဒ်သည်ကျွန်တော်တို့ နေရာယေရှိ
မုန်မြို့တောင်ဘက်မှာ၊ ဟခိလတောကြို တောင်
၂၀ ကြား၌ ဝှုန်းလျှက် နေသည် ဖြစ်၍- အရှင် မင်း
ကြီး၊ ကြွချင်သော စိတ်အား ကြီး သည် အတိုင်း
ကြွ တော် မူပါ၊ ထိုသူကို အရှင်မင်းကြီး လက်
တော်သို့အပ်သောအမှုသည်၊ကျွန်တော်တို့တာ
၂၁ ရှိပါစေဟု လျှောက် လျှင်၊- ရှော လုက၊ သင်တို့
သည် ထာဝရ ဘုရား ကောင်း ကြီး ပေး တော်မူ
သောသူဖြစ်ပါစေသော။သင်တို့သည်ငါ့ကိုသနား
၂၂ ကြပြီ၊- ယခုသွား၍ ဖွင့်ထင် ကြလော့၊ သူဝှုန်း
ရှောင်၍ နေရာကိုငှင်၊ အဘယ်သူမြင်ပြီး သည်
ကိုငှင်၊ စူးစမ်းကြလော့၊ သူသည် အလွန်လိမ္မာ
၂၃ သည်ကိုငါကြား၏။- ထိုကြောင့်၊ သူဝှုန်းရှောင်
ခိုလှုံရာအရပ်ရပ်တို့ကို၊ သေချာစွာ ကြည့်ရှုထိ
မှတ်ပြီးမှ၊ငါ့ထံသို့တဖန်လာကြလျှင်၊သင်တို့နှင့်
အတူငါလိုက်မည်၊ သူသည် ထိုပြည်၌ ရှိလျှင်၊
ယုဒအမျိုးသား အထောင်အသောင်းတို့ကြွင်း၍ငါ
၂၄ ရှာ၍ ထုတ်မည်ဟု မှာထားသည် အတိုင်း၊- သူ
တို့သည်ထ၍၊ ရှောလုအရင် ဇိဖတောသို့ သွား
ကြ၏၊ ဒါဝိဒ် နှင့် သူ၏ လူတို့ သည် မောန တော၊
ယေရှိမုန်မြို့ တောင်ထက်၊ လွင်ပြင်၌ ရှိကြ၏။-
၂၅ ရှောလုသည်လည်း၊ လူများနှင့်တကွ လာ၍ရှာ
သည်ကို ဒါဝိဒ်သည် ကြား ပြန်လျှင်၊ ကျောက်
ကြားမှ ထွက်သွား၍မောနတော၌နေ၏၊ ရှောလု
ကြား၊ ပြန်သော်၊ မောနတော၌ ဒါဝိဒ်ကို လိုက်၍
၂၆ ရှာ၏၊- ရှောလုသည်တောင်တဖက်၌ငှင်၊ဒါဝိဒ်
နှင့် သူ၏ လူတို့ သည် တဖက် ၌ ငှင်၊ သွားကြ၍

ရှောလုကိုကြောက်သဖြင့်၊လွတ်ခြောင်ကြိုးစား
စည်တွင်၊ရှောလုနှင့်သူ၏လူတို့သည်၊ဒါဝိဒ်နှင့်
၂၇ သူ၏လူထိုကိုဝိုင်း၍ဖမ်းမိလုကြပြီ၊-ထိုအခါတ
မန်ရောက်လာ၍၊အလျင်အမြန်ကြွလာတော်မူ
ပါ။ ဖိလိတ္တိလူတို့သည် ပြည်တော်ကို တိုက်လာ
ကြပါပြီဟု၊ ရှောလုအား၊ ကြားလျှောက် သော
၂၈ ကြောင့်၊-ရှောလု သည် ဒါဝိဒ်ကို လိုက် ရှာရာမှ
ပြန်၍၊ ဖိလိတ္တိ လူတို့ ရှိရာသို့ ရှိသွား လေ၏၊ သို့
ဖြစ်၍၊ ထို အရပ်ကိုသေလဟာမ္မလေကုပ်အမည်
၂၉ ဖြင့် သရုတ် သတည်း။- ဒါဝိဒ် သည် ထိုအရပ်မှ
သွား၍၊ အင်္ဂေဒိ မြို့နယ်၊ ခိုင် ခံ့သော အရပ်တို့၌
နေလေ၏။

၂၄

၁ ရှောလုသည်လည်း၊ဖိလိတ္တိလူတို့ကိုလိုက်ရာ
မှပြန်လာသောအခါ၊ဒါဝိဒ်သည်အင်္ဂေဒိတော၌
၂ ရှိပါ၏ဟု ကြားလျှောက် ကြလျှင်၊- ဣသရေလ
အမျိုးသားအပေါင်းတို့တွင်၊ ရွေးကောက်သော
လူသုံး ထောင် တို့ကို ခေါ် ၍၊ တောဆိတ် နေရာ
ကျောက်တောင်တို့အပေါ်မှာ၊ ဒါဝိဒ်နှင့်သူ၏လူ
၃ တို့ကိုရှာထဲ့သောငှါ သွားလေ၏၊- လမ်း နားမှာ
သိုးခြံရှိရာသို့ရောက်၍၊ဥမှင်ကိုတွေ့သဖြင့်၊ရှော
လုသည်အိပ်မည်ဟုဝင်လေ၏၊ဒါဝိဒ်နှင့်သူ၏လူ
တို့သည်၊ ထိုဥမှင် နံဘေး တဖက် တချက်၌ နေကြ
၄ ၏၊- ဒါဝိဒ်၏ လူတို့ ကလည်း၊ ထာဝရဘုရားက၊
သင်၏ ရန် သူကို သင့် လက်၌ ငါအပ် မည်၊ သူ၌
သင်ပြုချင်တိုင်း ပြုရသော အခွင့် ရှိလိမ့်မည်ဟု၊
ကိုယ် တော် အား မိန့် တော် မူ သော နေ့ ရက်
ရောက် ပါပြီဟု ဆို ကြလျှင်၊ ဒါဝိဒ် သည် ထ၍၊
ရှောလုဝတ်လျက်ရှိသောအင်္ကျီအောက်မိုင်းကို
၅ တိတ်ဆိတ်စွာလှီးဖြတ်လေ၏။- ထိုသို့ရှောလု၏
အင်္ကျီကို လှီး ဖြတ် မိသော ကြောင့်၊ ဒါဝိဒ်သည်
၆ နောက်တဖန်နှလုံးတရ၍၊- ထာဝရဘုရားပေး
တော်မူသောဘိသိက်ကိုခံသောငါ့အရှင်သည်၊
ထာဝရ ဘုရား၏ အ ခွင့် နှင့် ဘိသိက် ခံ သူ ဖြစ်
သောကြောင့်၊ ထိုအရှင်ကို ထိ မိုက် ခြင်းငှါ၊ ငါ
လက်ဆန့်သော အမှုကို ထာဝရဘုရားဆီးတား
တော်မူပါစေသောဟု၊မိမိလူတို့အားဆိုသဖြင့်၊-
၇ ရှောလုကို ထိမိုက် စေခြင်းငှါ အခွင့်မပေး၊ မြစ်
တားလေ၏၊ ရှောလုသည်လည်း၊ ထ၍ ဥမှင်ထဲ
က ထွက်သွားလေ၏။
၈ ထိုနောက်၊ ဒါဝိဒ်သည်ထ၍ ဥမှင်ထဲကထွက်
လျက်၊ ကျွန်တော်၏ သခင် အရှင် မင်းကြီးဟု၊
ရှောလုနောက်၌ထ်သဖြင့်၊ရှောလုသည်နောက်
သို့ကြည့်သောအခါ၊ ဒါဝိဒ်သည်မြေပေါ်၌ဦးချ
၉ ၍ပြပ်ဝပ်လျက်၊- ဒါဝိဒ်သည်၊ ကိုယ်တော်၏အ
ကျိုးကို ဖျက်ခြင်းငှါ ရှာကြံ သည်ဟု၊ လူအချို့
ပြောသောစကားကိုအဘယ်ကြောင့်နားထောင်
၁၀ တော်မူသနည်း။- ယနေ့ ထာဝရ ဘုရားသည်ဥ
မှင်ထဲမှာ၊ကိုယ်တော်ကို ကျွန်တော်လက်၌အပ်
တော်မူကြောင်းကို၊ကြည့်ရှုတော်မူပါ။ အထက်
တော်ကို သတ်စေခြင်းငှါ၊ အချို့ထိုသည် တိုက်
တွန်း သော် လည်း၊ ကျွန် တော် သည် နှစ် ခြော
သော စိတ် ရှိ၍၊ ငါ့အရှင်သည် ထာဝရ ဘုရား၏
ဘိသိက် ခံသူ ဖြစ်တော်မူသောကြောင့်၊ ထိုအ
ရှင်ကိုထိမိုက်ခြင်းငှါ၊ ငါသည်လက်ကို မဆန့်
၁၁ ထုအကြံ ရှိပါ၏၊- ထိုမှတပါး ကျွန် တော် အဖ၊
ကြည့်ရှု တော်မူပါ။ ကျွန် တော် လက်၌၊ အင်္ကျီ
တော် အောက် မိုင်း ကို ကြည့် ရှုတော် မူပါ။ အ
သက်တော်ကိုမသတ်၊အင်္ကျီတော်အောက်မိုင်း
ကိုလှီးဖြတ်ရုံမျှသာပြုသောကြောင့်၊ ကျွန်တော်
၌ဒုစရိုက် အပြစ်မရှိ၊ သွန်ကျူးခြင်း အပြစ်မရှိ
ကြောင်းကို သိမြင် တော်မူပါ၊ ကိုယ် တော်ကိုမ
ပြစ်မှားပါ၊သို့သော်လည်း၊ကျွန်တော်အသက်
ကိုသတ်ထဲ့သောငှါလိုက်၍ ရှာတော်မူပါသည်
၁၂ တကား။- ထာဝရ ဘုရား သည် ကျွန် တော်နှင့်
ကိုယ် တော် စပ် ကြား မှာ၊ စီ ရင် တော် မူ ပါစေ
သော၊ကျွန်တော်အား ပြစ်မှား သော အပြစ်ကို၊
ထာဝရဘုရား ဆပ် ပေး တော်မူပါစေသော၊ သို့
ရာတွင်၊ ကျွန်တော် လက် သည် ကိုယ် တော် အ
၁၃ ပေါ်သို့ မရောက်ပါစေနှင့်၊- ရှေးပုံစကား၊ ထာ
သည်အတိုင်း၊ ဆိုး သော သူ ထက်မှ၊ ဆိုးသော
အမှုထွက်တတ်၏၊ သို့ရာတွင်၊ ကျွန်တော်လက်
သည်ကိုယ်တော်အပေါ်သို့မရောက်ပါစေနှင့်။-
၁၄ ဣသရေလ ရှင် ဘုရင် သည်၊ အဘယ် သူ၏ အ
တွက်ကြောင့်ကြွလာတော်မူသနည်း၊ကိုယ်တော်
သည်အဘယ်သူကိုလိုက်၍ရှာတော်မူသနည်း။
ခွေးသေကောင်ကို လိုက်၍ ရှာတော်မူသလော။
၁၅ ခွေးလှေးကို လိုက်၍ ရှာ တော် မူသလော၊- သို့
ဖြစ်၍၊ ထာဝရ ဘုရား သည် တရားသူကြီးလုပ်
တော် မူပါစေသော၊ ကျွန်တော် နှင့် ကိုယ်တော်
စပ်ကြားမှာ၊ စီရင်တော်မူပါစေသော၊ ကြည့်ရှု
၍၊ ကျွန်တော်အမှုကို စောင့်သဖြင့်၊ ကျွန်တော်
ကိုကိုယ် တော် လက်မှ၊ ကယ် လွှတ် တော်မူပါ
၁၆ စေသောဟု၊ရှောလုအားလျှောက်ဆို၏၊-ထိုသို့

ဒါဝိဒ်သည် ရှောလုအား အကုန်အစင် လျှောက်
ဆိုပြီးမှ၊ ရှောလုကလော၊ ဒါဝိဒ်၊ ငါကြားသော
စကားသံသည် သင့် စကားသံလော ဟု မေး
၁၇ လျှောက်၊ အသံကို လွှင့်၍ ငိုကြွေးလေ၏။ တဖန်
တည်း၊ သင်သည် ငါ့ထက်သာ၍ တရားစောင့်၏၊
သင့်အကျိုးကို ငါရှုတ်ချသော်လည်း၊ သင်သည်
၁၈ ငါ၌ အကျိုး ကျေးဇူး ပြုပြီ။ ငါ၌ အထက်သို့
ကျေးဇူး ပြုသည်ကို သင်သည် ယနေ့ ပြပြီ၊ အ
ကြောင်းမူကား၊ ထာဝရဘုရားသည်၊ ငါ့ကိုသင့်
လက်၌ အပ်တော် မူသော် လည်း၊ သင် သည်မ
၁၉ သတ်ဘဲနေပါသည် တကား။ လူအသည် ရန်သူ
ကိုတွေ့လျှင်၊ ချမ်းသာစွာ လွှတ်လိမ့်မည်လော၊
ထိုကြောင့်၊ သင်သည် ငါ၌ ယနေ့ပြုသော ကျေး
ဇူးကို၊ ထာဝရဘုရား ဆပ်တော်မူပါစေသော။
၂၀ ယခုမှာသင်သည်စင်စစ် ရှင်ဘုရင် ဖြစ်လိမ့်မည်
ဟူ၍၎င်း၊ ဣသရေလ နိုင်ငံ သည် သင့် လက်၌
၂၁ တည်လိမ့်မည်ဟူ၍၎င်း၊ ငါအမှန်သိ၏။ သို့ဖြစ်
၍၊ သင်သည်ငါ၏ သားစဉ် မြေးဆက်တို့ကိုမ
သုတ်သင်၊ ငါ့အဆွေ အမျိုး ထဲက ငါ၏ နာမကို မ
ပယ် ရှင်း မည် အကြောင်း၊ ထာဝရ ဘုရား ကို
တိုင်တည်၍၊ ငါ့အားကျိန်ဆို ခြင်းကိုပြုလော့ဟု
၂၂ ဒါဝိဒ်အား ဆိုပြီးမှ၊- ဒါဝိဒ် သည် ရှောလုအား
ကျိန်ဆိုခြင်းကိုပြု၍၊ ရှောလုသည် မိမိနေရာသို့
သွားလေ၏၊ ဒါဝိဒ်နှင့်သူ၏လူတို့သည်လည်း၊ မိုင်ခံ့
သောအရပ်သို့ သွားကြ၏။

၂၅

၁ ထိုနောက်၊ ရှမွေလ သေသောအခါ၊ ဣသရေ
လအမျိုးသားအပေါင်းတို့သည်စည်းဝေး၍၊ ငို
ကြွေး မြည်တမ်းခြင်းကို ပြုသဖြင့်၊ ရာမမြို့ တွင်
သူ၏အိမ်၌သင်္ဂြိုဟ်ကြ၏။ ဒါဝိဒ်သည်ထ၍ပါ
၂ ရန်တောသို့သွားလေ၏။- ထိုအခါမောနအရပ်၌
နေ၍၊ ကရမေလမြို့၌ ဥစ္စာများသော သူတဦးရှိ
၏။ ထိုသူသည် လူကြီးဖြစ်၍၊ သိုးသုံးထောင်၊
ဆိတ် တထောင်ကိုရတတ်၏။ ကရမေလ မြို့မှာ
၃ သိုးမွေးကိုညှပ်၍ နေ၏။- ထိုသူ၏ အမည်ကား၊
နာဗလ၊ သူ၏ မယား၏ အမည် ကား၊ အဘိဂဲလ
တည်း၊ ထိုမိန်းမသည်ဉာဏ် ကောင်း၍၊ အဆင်း
လည်းလှ၏။ ယောက်ျားမူကား၊ ခက်ထန်သော
သဘောရှိ၏။ ဆိုးသောအမှုကိုလည်းပြုတတ်၏။
၄ ကာလက်အဆွေအမျိုးဖြစ်၏။- နာဗလသည်သိုး
မွေးညှပ်၍ နေကြောင်းကို၊ ဒါဝိဒ်သည် တော၌
၅ ကြားလျှင်၊- လုလင်တကျိပ်တို့ကို ခေါ်၍၊ နာဗ

၆ လရှိရာ ကရမေလမြို့သို့ သွားကြတော့။- စည်း
စိမ်ကြီးသောထိုသူကို၊ ငါ့ကိုယ်စားနှုတ်ဆက်၍
ပြောရမည်မှာ၊ ကိုယ်တော်မှစ၍၊ ကိုယ်တော်၏
အိမ်၊ ကိုယ်တော်နှင့် ဆိုင်သမျှတို့၌၊ ချမ်းသာရှိ
၇ ပါစေသော။- ကိုယ်တော်၌ သိုးမွေး ညှပ်သော
သူများ ရှိကြောင်း ကို အကျွန်ုပ် ကြား ပါ၏။ အ
ကျွန်ုပ်တို့ နှင့် အတူ နေသော ကိုယ်တော်၏ သိုး
ထိန်းတို့ကို၊ အကျွန်ုပ်တို့သည် မပြစ်မှားပါ။ သူတို့
သည်ကရမေလမြို့မှာ နေသော ကာလပတ်လုံး၊
၈ သူတို့ဥစ္စာတစုံတခုမျှမပျောက်ပါ။- ကိုယ်တော်
၏ လုလင်တို့ကို မေးမြန်းပါတော့၊ သူတို့ သည်
ပြောကြပါလိမ့်မည်၊ ထိုကြောင့်၊ အကျွန်ုပ်၏လု
လင်တို့သည်၊ ရှေ့တော်၌မျက်နှာရကြပါစေ၊ အ
ကျွန်ုပ်တို့သည်မင်္ဂလာနေ့၌ရောက်ပါ၏။ လက်
တော်၌ ရှိသမျှကို ကိုယ်တော် ကျွန်များ၊ ကိုယ်
တော်၏ သား ဒါဝိဒ် အား သနား တော် မူပါဟု
နှုတ်ဆက်ရမည် အကြောင်း၊ မှာထား၍ လွှတ်
၉ လိုက်၏။- ဒါဝိဒ်၏ လုလင်တို့သည်နာဗလထံသို့
ရောက် သော အခါ၊ ဒါဝိဒ် မှာ ထား သမျှ သော
စကားတို့ကို ပြန်ပြောပြီး လျှင်၊ တိတ်ဆိတ်စွာ
၁၀ နေကြ၏။- နာဗလကလည်း၊ ဒါဝိဒ်ကား အဘယ်
သူနည်း။ ယေရှဲ၏ သားကား အဘယ်သူနည်း။
ယခုကာလ၌သခင်ကိုပုန်ကန်သောကျွန်များပါ
၁၁ တကား။- ငါသည်၊ သိုးမွေးကိုညှပ်သောသူတို့
အဖို့ ပြင်ဆင်သော မုန့်၊ ရေ၊ အမဲသားကိုယူ
၍၊ ငါမသိသောလူတို့အားပေးရမည်လောဟု၊ ဒါ
၁၂ ဝိဒ်၏လုလင်တို့အားပြောဆို၏။- ဒါဝိဒ်၏လုလင်
တို့သည်လှည့်သွား၍၊ ထိုစကားအလုံးစုံတို့ကို၊
၁၃ ဒါဝိဒ်အားပြန်လျှောက်ကြ၏။- ဒါဝိဒ်ကလည်း၊
လူတိုင်း မိမိထားကိုခါး၌ စည်းစေဟု၊ မိမိလူတို့
အားဆိုလျှင်၊ မိမိထားကိုစည်းလေ၏။ လူလေး
ရာတို့သည် ဒါဝိဒ်နောက်သို့ လိုက်ကြ၏။ နှစ်ရာ
တို့သည်၊ ဥစ္စာပစ္စည်းများကိုစောင့်၍နေကြ၏။
၁၄ လုလင်တယောက်သည်နာဗလမယားအဘိ
ဂဲလထံသို့သွား၍၊ ဒါဝိဒ်သည်အကျွန်ုပ်တို့သခင်
ကို နှုတ်ဆက်ဆဲ့သော်ငြား၊ တမန်တို့ကို တောမှ
စေလွှတ်၍၊ အကျွန်ုပ်တို့သခင်သည်သူတို့ကိုဆဲ
၁၅ ပါ၏။- ထိုသူ တို့သည် ကျွန်တော်တို့၌ အလွန်
ကျေးဇူးပြုပါပြီ။ ကျွန်တော်တို့သည် တောမှာ
နေ၍၊ သူတို့နှင့်ပေါင်းဖော်သောကာလပတ်လုံး
၁၆ အရှုံးမခံ၊ ဥစ္စာတစုံတခုမျှမပျောက်ပါ။- ကျွန်
တော်တို့သည်သိုးထိန်း၍၊ သူတို့နှင့်ပေါင်းဖော်

သော ကာလပတ်လုံး၊ သူတို့သည် ရှေ့ညတွင် အ
၁၇ စည်းကွယ်ကာလျှက်နေကြပါ၏။ သို့ဖြစ်၍၊ သ
ခင်မသည်အဘယ်သို့ပြုသင့်သည်ကို၊ ကြည့်ရှု
ဆင်ခြင်ပါတော့၊ အကျွန်ုပ်တို့သခင်နှင့်အိမ်သူ
အိမ်သားအပေါင်းတို့၌၊ ဘေးရောက်မည်ဟု မှိုရ၍
ပါပြီ။ သခင်သည် ဗေလိယာလ်၏သားဖြစ်သောကြောင့်၊
အဘယ်သူမျှ မပြော မလျှောက်ဝံ့ပါဟု ဆိုသေ
၁၈ သော်၊ အဘိဂဲလသည်မုန့်လုံးနှစ်ရာ၊ စပျစ်ရည်
ဘူးနှစ်လုံး၊ ချက်ပြီးသောသိုးငါး‌ကောင်၊ ပေါက်
ပေါက်ငါးစေ၊ စပျစ်သီးခြောက်အခွက်တရာ၊
သဖန်းသီးပျဉ်အပြားနှစ်ရာတို့ကို၊ အ
၁၉ လျှင်အမြန်ယူ၍ မြည်းတို့အပေါ်၌ တင်ပြီးလျှင်- င
ရှေ့မှာ သွားကြ။ ငါလိုက်မည်ဟု ကျွန်တို့အား
၂၀ ဆို၏၊ ထင်နာဗလကိုအလျှင်းမပြော၊- မြည်းကိုစီး
လျက်သွား၍၊ တောင်ခြေရင်း၌ဆင်းသည့်စည်
တွင်၊ ဒါဝိဒ်နှင့်သူ၏လူတို့သည်၊ တဖက်တချက်
ဆင်းလာ၍၊ တယောက်နှင့်တယောက်တွေ့ကြုံ
၂၁ ကြ၏။- ထိုသို့မတွေ့မီဒါဝိဒ်က၊ အကယ်စင်စစ်၊
ထိုသူ၏ ဥစ္စာ တစုံ တခုကိုမျှ မပျောက် စေ ခြင်း
ငှါ၊ တော၌ သူပိုင်သမျှတို့ကို၊ ငါသည်အချည်း
နှီး စောင့် ပါ ပြီ တကား၊ ငါ ကောင်း သော အမှု
အတွက်၊ မကောင်းသော အမှုကို သူပြုပါပြီ တ
၂၂ ကား။- နက်ဖန်မိုးလင်းသောအခါ၊ နာဗလ
နှင့်ဆိုင်သော သူအပေါင်းတို့တွင်၊ ယောက်ျား
တစုံတယောက်ကို ငါချန်ထားလျှင်၊ ထိုမျှမက၊
ထာဝရ ဘုရားသည် ဒါဝိဒ်၏ ရန်သူ တို့အား ပြု
၂၃ တော်မူစေ သ တည်း ဟု ဆို နှင့် ပြီ။- အဘိဂဲလ
သည်ဒါဝိဒ်ကိုမြင်သောအခါ၊ မြည်းပေါ်ကအလျှင်
အမြန်ဆင်းပြီးလျှင်၊ ဒါဝိဒ်ရှေ့တွင်ခြေပေါ်မှာဦး
၂၄ ညွှတ်ချ၍-သူ၏ခြေရင်း၌ဝပ်တွားလျက်၊ ကျွန်မ
သခင်၊ အပြစ်ရှိသမျှကိုကျွန်မခံပါမည်၊ ကိုယ်
တော်၏ကျွန်မသည် နားတော်လျှောက်ရသော
၂၅ အခွင့်ကိုပေးတော်မူပါ။- ကိုယ်တော်၏ ကျွန်မ
စကားကို နား ထောင်းတော်မူပါ၊ ထို အဓမ္မလူ
နာဗလကို၊ ကျွန်မသခင် မှတ်တော် မမူပါနှင့်၊
သူ၏ အမည်သည် သူ၏ သဘောနှင့် ညီညွတ်ပါ
၏၊ သူ ၏ အမည် ကား နာဗလ၊ သူ၏ သ ဘော
ကား မိုက်ခြင်း ဖြစ် သတည်း၊ သခင် စေ လွှတ်
တော် မူသော လုလင်တို့ကို ကိုယ်တော် ကျွန်မ
၂၆ သည် မမြင်ရပါ။- ထိုရှမှာ ကျွန်မသခင်၊ ကိုယ်
တော်သည် လူ အသက်ကို သတ်ခြင်းငှါ မသွား
စည့် အကြောင်း၊ ကိုယ်ထက်နှင့် ကိုယ်အမှုကို
စောင့်၍၊ အပြစ်ဒါဏ် မပေး စည် အကြောင်း၊
ထာဝရ ဘုရား ဆီးတား တော် မူ သည် ဖြစ် ၍၊
ထာဝ ရ ဘုရား အသက် တော်၊ ကိုယ်တော် အ
သက်သည်၊ ရှင်တော် မူသည်အတိုင်း၊ အကျိုး
တော်ကိုဖျက်ဆီး ထိုသော ကိုယ်တော်၏ ရန်သူ
တို့ သည်၊ နာဗလ ကဲ့ သို့ ဖြစ် ကြ ပါ စေသော။-
၂၇ ယခု မှာ ကိုယ် တော် ၏ ကျွန်မ သည်၊ သခင် ထံ
သို့ဆောင်ခဲ့သောလက်ဆောင်ကို၊ ကျွန်မသခင်
နောက် တော် သို့ လိုက် သော လုလင် တို့ အား
၂၈ ပေးစေတော်မူပါ။- ကိုယ်တော်၏ကျွန်မအပြစ်
ကို သည်း ခံ တော် မူ ပါ၊ ကျွန် မ သ ခင် သည်
ထာဝရ ဘုရား၊ ထက်မှာ စစ်တိုက် သောကြောင့်
၎င်း၊ တ သက် လုံး ကိုယ် တော်၌ အပြစ်တင်စရာ
အ ခွင့်မရှိသောကြောင့်၎င်း၊ ထာဝရဘုရားသည်
ကျွန်မသခင်အဖို့၊ မိုင်ခံ့မြဲမြံသောအိမ်ကိုတည်
၂၉ ဆောက် တော် မူလိမ့်မည်။- ကိုယ်တော်၏ အ
သက် ကို သတ် ဖို့ သော ငှါ၊ လူ အရှုံ တို့သည်
ထ၍ရှာသော်သည်၊ ကိုယ်တော်၏ဘုရားသခင်
ထာဝရဘုရားသည်၊ ကျွန်မသခင်၏အသက်ကို
အသက်ထုပ်၌ချောင်ဖွဲ့တော်မူလိမ့်မည်။ ကိုယ်
တော်၏ ရန်သူတို့ အသက်ကိုမူကား၊ လောက်
ဖြှဲ ထဲက ပြစ် သကဲ့ သို့ ပြစ်တော် မူလိမ့် မည်။-
၃၀ ထာဝရဘုရား ဂတိထားတော်မူသည် အတိုင်း၊
ကိုယ်တော်၌ ကျေးဇူးပြု၍၊ ဣသရေလအမျိုး
ကိုအုပ်စိုးစေခြင်းငှါ၊ ခန့်ထားတော်မူသောအ
၃၁ ခါ၊-ကျွန်မ၏သခင်ကိုယ်တော်သည် အကြောင်း
မရှိဘဲ၊ လူ အသက်ကိုသတ်မိသောကြောင့်၎င်း၊
ကိုယ် အမှုကိုစောင့်၍ အပြစ်ဒါဏ် ပေးမိသော
ကြောင့်၎င်း၊ ကျွန်မ ၏ သခင် ကိုယ်တော်သည်
စိတ် ညှိုးငယ်ခြင်း၊ ကိုယ်တိုင်ကိုယ် အပြစ်တင်
ခြင်း နှင့်ကင်းလွတ်တော်မူပါစေသော၊ ထာဝရ
ဘုရားသည်၊ ကျွန်မ၏သခင်၌ ကျေးဇူးပြုတော်
မူ ပြီး မှ၊ ကိုယ် တော် ၏ ကျွန် မ ကို အောက်မေ့
၃၂ တော်မူပါဟုလျှောက်လေ၏။- ဒါဝိဒ်ကလည်း၊
ယနေ့ ငါနှင့် တွေ့စေ ခြင်း ငှါ၊ သင့် ကို စေ လွှတ်
တော်မူသော ဣသရေလ အမျိုး၏ ဘုရားသခင်
ထာဝရ ဘုရား သည်၊ မင်္ဂလာ ရှိတော် မူစေ သ
၃၃ တည်း။- သင်ပေးသော အကြံသည်း မင်္ဂလာရှိ
စေသတည်း၊ ယနေ့ ငါသည်လူအသက်ကိုသတ်
ဖို့သောငှါ၊ မသွား ရမည် အကြောင်း၊ ကိုယ်
ထက်နှင့်ကိုယ်အမှုကိုစောင့်၍၊ အပြစ်ဒါဏ်မ
ပေးရမည်အကြောင်း၊ ဆီးတားသောသင်သည်

၃၄ လည်း၊မင်္ဂလာရှိစေသတည်း။-တကယ်စင်စစ်၊
သင့်ကို ငါ မညှဉ်းဆဲရမည် အကြောင်း၊ ဆီး
တား တော်မူသော ဣသရေလ အမျိုး၏ ဘုရား
သခင် ထာဝရ ဘုရား အသက် ရှင်တော်မူသည်
အတိုင်း၊သင်သည်ငါနှင့်တွေ့ခြင်းငှါ၊အလျင်အ
မြန်မလာလျှင်၊ အကယ်စင်စစ်၊ နက်ဖန်မိုး
လင်းသောအခါ၊ နာဗလ၏ လူ ယောက်ျား တစုံ
တယောက်ကိုမျှ ငါချန်၍ မထားဟု၊ အဘိဂဲလ
၃၅ အား ပြောဆို လျက်- သူ ဆောင်ခဲ့သော လက်
ဆောင်ကို သူ၏လက်မှ ခံယူ၍၊ သင်သည်နေရာ
အိမ်သို့ ငြိမ်ဝပ်စွာ သွား လော့၊ သင်၏ စကား
ကို ငါ နားထောင်ပြီ၊ သင်၏ မျက်နှာ ကို လည်း
ထောက်၍နေမည်ဟုဆိုလေ၏။
၃၆ အဘိဂဲလ သည် လည်း၊ နာဗလ ထံ သို့ ပြန်
သွား၍၊သူသည်ရှင်ဘုရင်၏ပွဲကဲ့သို့သော ပွဲကို၊
မိမိအိမ်၌ခံသဖြင့်၊ယစ်မူး၍စိတ်ရွှင်လန်းလျက်
နေသောကြောင့်၊ မိုးမလင်းမှီမယားသည်အ
၃၇ လျှင်းမပြော၊- မိုးလင်း၍ နာဗလသောက်
သော မူးရည် အရှိန် ကုန်သော အခါ၊ ထိုအမှု
များကို မယားပြောသဖြင့်၊ သူသည် နှစ်လုံးသေ
၃၈ ၍ ကျောက်ကဲ့သို့ ဖြစ်၏။- ဆယ်ရက် လောက်
လွန်မှ၊ ထာဝရဘုရားသည် ဒဏ်ခတ်တော်မူ
၃၉ သဖြင့်နာဗလသေ၏။- နာဗလသေကြောင်းကို
ဒါဝိဒ် ကြားသော အခါ၊ ငါ ခံရသော ကဲ့ရဲ့ ခြင်း
အမှုကိုစောင့်၍၊နာဗလလက်မှ နှုတ်တော်မူ၍၊
ကိုယ်တော် ကျွန်ကို ဒုစရိုက် နှင့် ကင်းလွတ် စေ
တော်မူသောထာဝရဘုရားသည်မင်္ဂလာရှိတော်
မူစေသတည်း။ ထာဝရဘုရားသည် နာဗလပြု
သော ဒုစရိုက်ကို၊ သူခေါင်းပေါ်သို့ ပြန်ရောက်
စေတော်မူပြီဟုဆို၏၊တဖန်လူကိုစေလွှတ်၍၊အ
ဘိဂဲလနှင့်ထက်ထပ်ခြင်းငှါနှုတ်ဆက်လေ၏။-
၄၀ ဒါဝိဒ်၏ကျွန်တို့သည်အဘိဂဲလရှိရာ၊ ကရမေလ
မြို့သို့ရောက်သောအခါ၊ ဒါဝိဒ်သည် သခင်မနှင့်
ထက်ထပ်ခြင်းငှါ၊ ကျွန်တော်တို့ကိုစေလွှတ်ပါ
၄၁ ပြီဟု ပြောဆိုလျှင်၊- အဘိဂဲလသည်ထ၍ မြေ
ပေါ်မှာပြပ်ဝပ်လျက်၊ ကျွန်မသည် ကျွန်မသခင်
၏ ကျွန်တို့ခြေကို ဆေးသော ကျွန်မ ဖြစ်ပါစေ
၄၂ သောဟုဆိုပြီးမှ၊-အလျင်အမြန်ထ၍၊မိမိနောက်
လိုက်ကျွန်မ ငါးယောက် ပါလျက်မြီး၊သဖြင့်၊
ဒါဝိဒ်စေလွှတ်သော လူတို့နှင့်တကွလိုက်၍၊ ဒါ
၄၃ ဝိဒ်၏ ခင်ပွန်း ဖြစ်လေ၏။- ဒါဝိဒ်သည်ယေဇရေ
လမြို့သူအဟိနောင်ကိုလည်းသိမ်း၍၊ထိုမိန်းမနှစ်
၄၄ ယောက်တို့သည်သူ၏ခင်ပွန်းဖြစ်ကြ၏။- ရှော
လုသည်မိမိသမီး၊ ဖြစ်သော ဒါဝိဒ်၏မယားမိခါလ
ကို၊ ဂလ္လိမ်မြို့သား ဖြစ်သော၊ လဲရှ၏သား ဖာလ
တိအားပေးစားနှင့်ပြီ။

၂၆

၁ တဖန် ဇိဖ သားတို့သည် ရှောလုရှိရာ ဂိဗာမြို့
သို့လာ၍၊ ဒါဝိဒ်သည်ယေရှိမုန်မြို့ရှေ့မှာ၊ ဟာခိ
လ တောင်၌ ပုန်းရှောင်၍ နေပါသည် မဟုတ်
၂ လောဟု လျှောက်လျှင်၊- ရှောလုသည် ထ၍၊
ရွေးကောက်သော ဣသရေလလူ သုံးထောင်ပါ
လျက်၊ ဇိဖတော၌ဒါဝိဒ်ကိုရှာခြင်းငှါ သွားလေ
၃ ၏။-ရှောလုသည်ယေရှိမုန်မြို့ရှေ့၊ဟခိလတောင်
ပေါ်၊ လမ်းနားမှာတပ်ချ၏။ ဒါဝိဒ်သည်တော၌
နေ၍၊ရှောလုလိုက်ရှာကြောင်းကိုသိမြင်သော
၄ အခါ၊- သူလျှိုတို့ကိုစေလွှတ်၍၊ ရှောလုရောက်
၅ ကြောင်းကိုအတပ်သိ၏။- ထိုအခါ ဒါဝိဒ်သည်
ထသွား၍၊ရှောလုတပ်ချရာ အရပ်သို့ရောက်သ
ဖြင့်၊ ရှောလုနှင့် ဗိုလ်ချုပ်မင်း နေရ၏ သားအာ
ဗနာ အိပ်ရာအရပ်ကို ကြည့်ရှုလေ၏။ ရှောလု
သည် ရထားတပ် အထဲ၌ အိပ်လျက်၊ စစ်
၆ သားတို့သည်ပတ်လည်၌နေရာကျကြ၏။- ဒါဝိဒ်
ကလည်း၊ ရှောလု ရှိရာတပ်သို့ ငါနှင့်အတူ အ
ဘယ်သူ လိုက်ပါနည်းဟု၊ ဟိတ္တိအမျိုးသား
အဟိမလက် နှင့် ဇေရုယာ၏ သား၊ ယွာဘ ညီ
အဘိရှဲ တို့ကိုမေးလျှင်၊ အဘိရှဲက၊ ကျွန်တော်
၇ လိုက်ပါမည်ဟုလျှောက်သည်အတိုင်း။- ဒါဝိဒ်
နှင့်အဘိရှဲတို့သည်၊ ညည့်အခါတပ်သားများ
ရှိရာသို့ သွား၍၊ ရှောလုသည် ရထားတပ် အ
ထဲ၌ အိပ်ပျော်လျက်၊ လှံတော်သည် ခေါင်း
ရင်းအနား မြေ၌ စိုက်လျက်၊ အာဗနာနှင့် တပ်
သားများတို့သည် ပတ်လည်၌အိပ်လျက်ရှိကြ
၈ ၏။- အဘိရှဲကလည်း၊ဘုရားသခင်သည်ကိုယ်
တော်၏ ရန်သူကို၊ ကိုယ်တော် လက် ၌ ယနေ့
အပ်တော်မူပြီ၊ ထိုကြောင့်ကျွန်တော်သည်မြေ
တိုင်အောင်၊လှံနှင့်တချက်တည်းထိုးပါရစေဟု၊
ကျွန်တော်တောင်းပန်ပါ၏၊ နှစ်ချက်တိုင်အောင်
၉ မထိုးပါဟု၊ ဒါဝိဒ်ကိုလျှောက်သော်လည်း၊- ဒါ
ဝိဒ်က သူကိုမပြုနှင့်၊ ထာဝရဘုရား အခွင့်နှင့်
ဘိသိတ်ခံသောသူကို၊ အဘယ်သူ အပြစ်လွတ်
လျက်ထိပါးနိုင်သနည်းဟု၊အဘိရှဲအားပြန်ဆို
၁၀ ၏။- တဖန်ဒါဝိဒ်က၊ ထာဝရဘုရား အသက်ရှင်
တော်မူသည်အတိုင်း၊ ဒဏ်ခတ်တော်မူမည်။

သို့မဟုတ်၊ သူသေချိန် ရောက် လိမ့် မည်၊ သို့မ
ယုတ်၊ စစ်တိုက် ရာ၌ အသက် ဆုံး လိမ့် မည်။-
၁၁ ထာဝရဘုရား ပေးတော်မူသော ဘိသိတ်ခံသူ
ကို၊ငါမထိခိုက်မည်အကြောင်း၊၊ထာဝရဘုရား
ဆီးတားတော်မူပါစေသော၊ သို့ရာတွင်၊ ခေါင်း
ရင်းတော်နားမှာရှိသော လှံတော်နှင့် ရေဘူးကို
၁၂ ယူ၍ သွားကြကုန်အံ့ဟု ဆိုလျက်- လှံတော်နှင့်
ရေဘူးကို၊ ရှောလုခေါင်းရင်းနားကယူ၍ သွား
ကြ၏၊ အဘယ်သူမျှမသိမမြင်၊ အဘယ်သူမျှမ
နိုး၊ ကြီးစွာသောအိပ်ခြင်းဖြင့်၊ ထာဝရဘုရား
အိပ်စေတော်မူသောကြောင့်၊ထိုသူအပေါင်းတို့
၁၃ သည်အိပ်ပျော်ကြ၏။-ထိုအခါဒါဝိဒ်သည်ကျယ်
သော ချိုင့်တဖက်သို့ ကူး၍၊ ဝေးသော တောင်
၁၄ ထိပ် အပေါ်မှာ ရပ်လျက်၊- အိုအာဗနာ၊ သင်
သည်မထူးသလောဟု၊ လူများနှင့်နေရသားအာ
ဗနာကို ဟစ်ခေါ်၏၊ အာဗနာက၊ ရှင်ဘုရင် ကို
ဟစ်သောသင်ကား၊ အဘယ်သူနည်းဟုပြန်၍
၁၅ မေးလျှင်၊-ဒါဝိဒ်က၊ သင်သည်ယောက်ျားမဟုတ်
လော၊ ဣသရေလအမျိုး၌၊ သင်နှင့်အဘယ်သူ
တူသနည်း။ သို့ဖြစ်၍၊သင်၏သခင်ရှင်ဘုရင်ကို
အဘယ် ကြောင့် မစောင့်သနည်း။ သင်၏ သခင်
ရှင် ဘုရင်ကို သတ် အံ့ သောငှါ၊ လူ တယောက်
၁၆ ဝင်ထေပြီ၊- သင်ပြုသောအမှုသည် မလျောက်
ပတ်၊ ထာဝရဘုရား၏အ ခွင့်နှင့်ဘိသိတ်ခံသော
သင်၏သခင်ကို မစောင့် သောကြောင့်၊ ထာဝရ
ဘုရား၏ အသက် ရှင် တော် မူသည် အတိုင်း၊ သင်
သည်အသေခံထိုက်ပေ၏၊ ခေါင်းရင်းတော်နား
မှာ ထား သော ရှင်ဘုရင်၏ လှံ တော် နှင့် ရေဘူး
တော်ရှိသည်မရှိသည်ကိုကြည့်ရှုလော့ဟု၊အာ
၁၇ ဗနာအားပြောဆို၏၊-ရှောလုသည်ဒါဝိဒ်စကား
သံကိုသိ၍၊ သားဒါဝိဒ်၊ ငါကြားသော စကား
သံသည်သင့်စကားသံလောဟုမေးလျှင်၊ ဒါဝိဒ်
က၊ ကျွန်တော် စကား သံ မှန် ပါ၏၊ ကျွန်တော်
၁၈ သခင်အရှင်မင်းကြီး၊ ဟုလျှောက်လေ၏၊- တဖန်
ဒါဝိဒ်က၊ သခင် သည် ကိုယ်တော် ကျွန်ကို၊ အ
ဘယ်ကြောင့်ဤသို့လိုက်၍ရှာတော်မူသနည်း၊၊
ကျွန်တော်သည်အဘယ်သို့ပြုပါသနည်း။ ကျွန်
၁၉ တော်၌အဘယ်အပြစ် ရှိပါသနည်း၊၊- ယခုမှာ
ကျွန်တော် သခင် ရှင်ဘုရင်၊ ကိုယ်တော် ကျွန်
စကားကိုနားညောင်းတော်မူပါ၊ ထာဝရဘုရား
သည်၊ ကိုယ် တော်ကို ကျွန်တော် တဘက်၌ နှိုး
ဆော်တော်မူသည်မှန်လျှင်၊ ယဇ်ပူဇော်ခြင်းကို
ထက်ခံတော်မူပါစေသော၊ သို့မဟုတ်၊ လူသား
တို့သည်နှိုးဆော်သည်မှန်လျှင်၊ ထာဝရဘုရား
ရှေ့တော်၌ ကျိန် ခြင်း ကိုခံကြ ပါ စေ သော၊ အ
ကြောင်းမူကား၊ သူတို့ကသွားလော့၊ အခြားသော
ပါးသောဘုရားတို့ကို ဝတ်ပြုလော့ဟု ဆိုလျက်၊
ကျွန်တော်ကို၊ထာဝရဘုရား၏အမွေ၌တော်မခြင်း၌
မနေစေခြင်းငှါ၊ ယနေ့ပယ် နှင်ထုတ်ကြပါသည်
၂၀ တကား။- သို့ဖြစ်၍၊ ကျွန်တော် အသွေးသည်၊
ထာဝရဘုရား ရှေ့တော်၌ မြေသို့မကျပါစေနှင့်၊
အကြောင်းမူကား၊ လူသည်တောင်ပေါ်မှာ
လိုက်၍ရှာသကဲ့သို့၊ဣသရေလရှင်ဘုရင်သည်
ခွေးလှေးကိုရှာခြင်းငှါ၊ ထွက်တော် မူပါပြီတ
၂၁ ကားဟု လျှောက် ဆို၏။- ရှောလုကလည်း၊ ငါ
ပြစ် မှား ပါပြီ၊ သား ဒါဝိဒ်၊ ပြန် လာ ပါ၊ သင်
သည်ယနေ့ ငါ့အသက်ကိုနှစ်မြို့သောကြောင့်၊
နောက်တဖန် သင့်ကိုငါမညှဉ်းဆဲ၊ ငါသည်လူ
မိုက်ဖြစ်၏၊ အလွန် မှား ယွင်းပြီဟု ဆို သော်၊-
၂၂ ဒါဝိဒ်က၊ ရှင်ဘုရင် လှံတော် ရှိပါ၏၊ လုလင်တ
၂၃ ယောက် လာ၍ ယူစေတော်မူပါ။- လူအသီးသီး
သီးတို့သည်ဖြောင့်မတ်ခြင်း၊၊သစ္စာစောင့်ခြင်းရှိ
သည်အတိုင်း၊၊ ထာဝရ ဘုရားသည် အကျိုးကို
ဆပ် ပေး တော် မူ ပါ စေ သော၊ ထာဝရ ဘုရား
သည်၊ ယနေ့ ကိုယ်တော်ကို ကျွန် တော် လက်၌
အပ် တော် မူ သော် လည်း၊ ထာဝရ ဘုရား ပေး
တော်မူသောဘိသိတ်ခံသူကို၊ ကျွန်တော်မထိခိုက်
၂၄ မိုက်ပါ။- ယနေ့ ကိုယ် တော် အ သက်ကို ကျွန်
တော်နှစ်မြို့သည်နည်းတူ၊ ကျွန်တော်အသက်
ကို ထာဝရဘုရားနှစ်မြို့၍၊ ကျွန်တော်ကိုခပ်
သိမ်းသော ဒုက္ခထဲက ကယ်နှုတ်တော် မူပါစေ
၂၅ သောဟု ပြန်လျှောက်လျှင်၊- ရှောလုက သား
ဒါဝိဒ်၊သင်သည်မင်္ဂလာရှိပါစေသော၊ပြုလေရာ
ရာ၌ အောင်မြင်ပါစေသောဟု ဒါဝိဒ်အားဆိုပြီး
မှ၊ဒါဝိဒ်သည်ထွက်သွား၍၊ရှောလုသည်ထငိုး
မိမိနေရာသို့ပြန်လေ၏။

၂၇

၁ တဖန်ဒါဝိဒ်က၊ ငါသည်ရှောလုလက်ဖြင့်ဆုံး
ရှုံးရသော အချိန် ရောက် လိမ့် မည်၊ သို့ဖြစ်၍၊
ဖိလိတ္တိပြည်သို့ အလျင် အမြန် ပြေး ကောင်း၏၊
သည်ထက် ကောင်းသော အရာမရှိ၊ သို့ပြုလျှင်၊
ရှောလုသည်ဣသရေလပြည်နယ်တွင်၊ကိုရှာ
၍မတွေ့နိုင်ကြောင်းကိုသိလျက်၊ အားလျော့၍
သု ထက်မှ ငါလွတ်လိမ့်မည်ဟု အကြံရှိသည်

၂ အထိုင်း၊- မိမိ၌ပါသော လူခြောက်ရာနှင့် တကွ
ထ၍၊ ဂါသမင်းမောစသား အာခိတ် ထံသို့ ကူး
၃ သွား ကြ၏၊- ဒါဝိဒ် နှင့် သူ၏ လူများ ထိုသည်၊
အသီးအသီး မိမိသား မယားပါလျက် ဂါသမြို့၊
အာခိတ် မင်းထံမှာ နေကြ၏။ ဒါဝိဒ်မယား နှစ်
ယောက်၊ ယေဇရေလ မြို့သူ အဟိနောင် နှင့် နာ
ဗလ မယား၊ ကရမေလ မြို့သူ အဘိဂဲလ ပါသ
၄ တည်း၊-ဒါဝိဒ်သည် ဂါသမြို့သို့ပြေးသွားကြောင်း
ကို၊ ရှောလုသည်ကြား၍ နောက်တဖန် မလိုက်
၅ မရှာဘဲ နေ၏၊- ဒါဝိဒ်သည် အာခိတ် မင်းထံသို့
ဝင်၍၊ ကျွန်တော် သည် ရှေတော်၌ မျက် နှာ ရ
သည်မှန် လျှင်၊ ကျွန်တော်နေစရာ တောရွာတရွာ
ကို သနားတော် မူပါ၊ ကိုယ်တော် ကျွန် သည် မြို့
တော်၌ ကိုယ်တော်နှင့် အတူ၊ အဘယ်ကြောင့်
၆ နေရပါအံ့နည်းဟုလျှောက် လေသော်၊- ထိုနေ့၌
အာခိတ် မင်း သည် ဇိကလတ် မြို့ကို ပေး၏၊ ထို
ကြောင့်ယနေ့တိုင်အောင်၊ယုဒရှင်ဘုရင်တို့သည်
၇ ဇိကလတ် မြို့ကို ပိုင်ကြ၏၊- ဒါ ဝိဒ်သည် ဖိလိတ္တိ
ပြည်၌ နေသောနေ့ရက်ပေါင်း ကား၊ တ နှစ် နှင့်
လေးလရှိသတည်း။
၈ တရံရောအခါ ဒါဝိဒ်နှင့်သူ၏လူတို့သည် သွား၍
ဂေရှုရိလူ၊ ဂေရဇိလူ၊ အာမလက်လူတို့ကိုတိုက်
ကြ၏၊ ထိုလူ မျိုး တို့သည်၊ ရှေးကာလ၌ ရှုရမြို့
ထိမ်းမှစ၍ အဲဂုတ္တုပြည် တိုင်အောင်၊ အမြဲ နေ
၉ သောသူဖြစ်သတည်း၊- ထိုပြည်ကို ဒါဝိဒ်သည်
လုပ်ကြံ၍၊ ယောကျ်ားမိန်းမတစုံတယောက်ကိုမျှ
အသက် ချမ်းသာမပေး၊ သိုး၊ နွား၊ မြည်း၊ ကုလား
အုတ်၊ အဝတ် တန်ဆာတို့ကို သိမ်းယူ၍၊ အာ
၁၀ ခိတ်မင်းထံသို့ပြန်သွားလေ၏၊-အာခိတ်မင်းက၊
သင်တို့ သည် ယနေ့ အဘယ် အရပ်သို့ သွား၍
တိုက်သနည်းဟုမေးသော်၊ ဒါဝိဒ်က၊ ယုဒပြည်
တောင်ဘက်၊ ယေရမေလ ပြည် တောင် ဘက်၊
ကေနိပြည်တောင်ဘက်သို့ သွား၍တိုက်ပါသည်
၁၁ ဟုလျှောက်၏၊- ထိုသို့ ဒါဝိဒ်ပြုပြီဟု၊ ဂါသမြို့သို့
ဆော၍ သိတင်း ကြား ပြောမည် သူ မရှိစေခြင်း
ငှါ၊ ယောကျ်ားမိန်းမတစုံတယောက်ကိုမျှအသက်
ချမ်းသာ မပေး၊ ဒါဝိဒ် သည် ဖိလိတ္တိ ပြည်၌ နေ
၁၂ သော ကာလပတ်လုံး၊ ထိုသို့ ပြုလေ့ရှိ၏၊- အာ
ခိတ်မင်းက၊ ဒါဝိဒ်သည် မိမိကိုမိမိလူမျိုးအစ္စရေး
ရဲ့ ဆုပ်ရှုံ့ရှာသည်တိုင်အောင်ပြုပြီ၊ သို့ဖြစ်၍၊
ထိုသူ၌ အစဉ် ကျွန် ခံလိမ့်မည်ဟု၊ ဒါဝိဒ် စကား
ကိုယုံလျှက် ဆို၏။

၂၈

၁ ထိုကာလ၌၊ ဖိလိတ္တိလူတို့သည်၊ ဣသရေလ
အမျိုးကို စစ်တိုက် ထိုးသောငှါ၊ မိုလ်ခြေများကို
စုဝေးကြ၏၊ အာခိတ်မင်းကလည်း၊ သင်သည်
လူ များ ပါလျက်၊ ငါနှင့် လိုက်၍ စစ်တိုက် သွား
ရမည် ကို၊ ဆက်ဆက် သဘော ကျလော့ဟု ဒါ
၂ ဝိဒ် အား ဆိုလျှင်၊- ဒါဝိဒ် က၊ အကယ် စင်စစ်
ကိုယ်တော်ကျွန်သည် အဘယ်သို့ ပြုနိုင်သည်
ကို၊ ကိုယ် တော် သည် သိတော် မူလိမ့် မည် ဟု
လျှောက်သော်၊အာခိတ်မင်းက၊ သို့ဖြစ်၍၊ သင့်
ကိုငါအသက်စောင့်၊ မိုလ်ချုပ်အရာ၌ငါခန့်ထား
မည်ဟုပြန်ပြော၏။
၃ ထိုကာလ၌ရှမွေလ မရှိ၊ သေလွန်ပြီ၊ ဣသရေ
လ အမျိုးသား အပေါင်း တို့သည်၊ ငိုကြွေးခြင်း
တမ်းချင်းကိုပြုလျက်၊ သူကိုသူနေရင်းရာမမြို့၌
သင်းဂြိုဟ်ကြပြီ၊ ရှောလုသည်ဗိန်းနှင့် နတ်ဝင်
အပေါင်းတို့ကို၊ တပြည်လုံးတွင်ဆုတ်သင်ပယ်
၄ ရှင်းနှင့်ပြီ၊-ထိုအခါဖိလိတ္တိလူတို့သည်စုဝေး၍၊
ရှုနင်မြို့မှာ တပ် ချ ကြ၏၊ ရှောလု သည် ထည်း၊
ဣ သရေလ အမျိုးသား အပေါင်းတို့ကို စုဝေးစေ
၍၊ သူတို့ သည် ဂိလဗောမြို့မှာ တပ်ချ ကြ၏။-
၅ ရှောလု သည် ဖိလိတ္တိ လူ အလုံး အရင်း ကို မြင်
သောအခါ၊ ကြောက်၍ အလွန် တုန်လှုပ်သော
၆ စိတ်နှစ်လုံးရှိ၏၊ ထာဝရဘုရားကိုမေးလျှောက်
သော်လည်း၊ ထာဝရဘုရားသည်တူတော်မမူ၊
အိပ်မက်အားဖြင့်၎င်း၊ ဥရိမ်အားဖြင့်၎င်း၊ ပရော
ဖက်အားဖြင့်၎င်းထူးတော်မမူ။
၇ ထို အခါ ရှောလု က၊ နတ်ဝင် မိန်းမ ကို ရှာကြ
လော့၊ ငါသွား၍မေးမြန်းမည်ဟု၊ ကျွန်တို့အား
ဆိုသည်အတိုင်း၊ ကျွန်တို့က အဲန်ဒေါရမြို့မှာနတ်
ဝင် မိန်းမ တယောက် ရှိပါ၏ ဟု လျှောက် သော်၊-
၈ ရှောလု သည် အဝတ် လဲ၍၊ ထူး ခြား သော အ
ရောင် ကို ဆောင် လျက်၊ ညည့် အ ခါ လူ နှစ်
ယောက်နှင့်တကွ၊ ထိုမိန်းမထံသို့သွား၍ရောက်ပြီး
လျှင်၊ သင် ပေါင်း သော နတ် ကို အမှီပြု၍၊ သင့်
အားငါပြောမည်သူကိုဖော်ပါလော့ဟုဆောင်း
၉ ပန်လေ၏၊ မိန်းမကလည်း၊ ရှောလုပြုသောအမှု၊
ဗိန်း နှင့် နတ် ဝင် တို့ကို၊ တပြည် လုံးတွင် ဆုတ်
သင် ပယ်ရှင်းသော အမှုကို သင် သည် သိကျွမ်း
နှင့်၊ ငါ့ကိုသေစေခြင်းငှါ၊ အဘယ်ကြောင့် ငါ့အ
သက်ကိုကျော့ကွင်းမယ်းသနည်းဟု ပြန်ပြောသော်၊-
၁၀ ရှောလုက၊ ထာဝရ ဘုရား အသက် ရှင် တော်မူ

သည်အတိုင်း၊၊ ဤအမှုကြောင့်အဘယ်အပြစ်မျှ
မရောက်ရဟု၊ ထာဝရဘုရားကို တိုင်တည်၍
၁၁ ကျိန်ဆိုလေ၏။- မိန်းမကလည်း၊အဘယ်သူကိုငါ
ခေါ်ရမည်နည်းဟု မေးလျှင်၊ ရှောလုက၊ ရှမွေ
၁၂ လကို ခေါ်ပါဟုဆို၏။-မိန်းမသည်ရှမွေလကိုမြင်
သောအခါ၊ ကြီးသော အသံ နှင့် အော် ဟစ်၍၊
ကိုယ် တော် သည် ကျွန် မ ကို အ ဘယ် ကြောင့်
လှည့် စား သနည်း။ ကိုယ် တော် သည် ရှောလု
၁၃ ဖြစ်ပါ၏ဟု၊ရှောလုအားဆိုလျှင်-ရှင်ဘုရင်က၊
မစိုးရိမ် နှင့်၊ အဘယ်အရာကို မြင် သနည်း ဟု
မေး သော်၊ မိန်း မ က၊ မြေကြီး ထဲ က ဘုရား တက်
လာသည်ကိုကျွန်မမြင်ပါသည်ဟုလျှောက်၏။-
၁၄ အ ဘယ် သို့ သော အရောင် အဆင်း ရှိ သ နည်း ဟု
မေးပြန်သော်၊ လူအို တက်လာပါ၏၊ ဝတ်လုံခြုံ
လျက်ရှိပါ၏ဟုလျှောက်ပြန်လျှင်၊ ရှမွေလဖြစ်
ကြောင်းကို၊ရှောလုသည်ရိပ်မိ၍မြေပေါ်မှာဦး
၁၅ ညွှတ် ပြပ်ဝပ်လျက်နေ၏။- ရှမွေလ ကလည်း၊
သင်သည်ငါ့ကိုနှောင့်ရှက်လျက်၊အဘယ်ကြောင့်
ခေါ် သနည်းဟု၊ ရှောလုကိုမေးသော်၊ ရှောလု
က၊အကျွန်ုပ်သည်အလွန်ဆင်းရဲခြင်းသို့ရောက်
ပါပြီ။ ဖိလိတ္တိ လူတို့သည် စစ် တိုက် ကြ ပါ၏။
ဘုရား သခင်သည် အကျွန်ုပ်ကို စွန့်တော်မူပြီ။
ပရောဖက်အားဖြင့်လည်းတော်မမူ၊အိပ်မက်အား
ဖြင့်လည်းတော်မမူ၊အကျွန်ုပ်သည်အဘယ်သို့ပြုရ
မည်ကို၊ ကိုယ် တော် ပြစေခြင်းငှါ၊ ကိုယ်တော်
၁၆ ကိုအကျွန်ုပ်ခေါ်ပါပြီဟုပြောဆို၏။- ရှမွေလက
လည်း၊၊ ထာဝရဘုရားသည် သင့်ကိုစွန့်၍၊ သင့်
ရန်ဘက်ဖြစ်တော်မူသည်မှန်လျှင်၊ငါ့ကိုအဘယ်
၁၇ ကြောင့်မေးမြန်းသေးသနည်း။- ထာဝရဘုရား
သည်ငါ့အားဖြင့်မိန့်တော်မူသည်အတိုင်း၊၊ သင်
၌ပြုတော်မူပြီ၊ ထာဝရဘုရားသည်၊ ဤနိုင်ငံကို
သင့်ထက်မှနှုတ်၍၊ သင့်အိမ်နီးချင်း၊ဒါဝိဒ်အား
၁၈ ပေးတော်မူပြီ။- အကြောင်းမူကား၊၊ သင်သည်
ထာဝရဘုရား၏ စကားတော်ကို နားမထောင်၊
ပြင်းစွာသော အမျက်တော်ကို၊ အာမလက် အ
မျိုး၌မစီရင် သောကြောင့်၊ ထာဝရဘုရား သည်
၁၉ ဤအမှုကို၊ယနေ့ သင်၌ရောက်စေတော်မူပြီ။-ထို
မှတပါး၊၊ သင်နှင့်ဣသရေလအမျိုးကို၊ ဖိလိတ္တိ
လူတို့လက်၌အပ်တော်မူမည်၊ နက်ဖန်နေ့၊သင်
နှင့်သင်၏သားတို့သည်ငါနှင့်အတူရှိလိမ့်မည်၊
ထာဝရဘုရားသည်ဣသရေလလူအလုံးအရင်း
ကို၊ဖိလိတ္တိလူတို့လက်၌ အပ်တော်မူမည်ဟုဆို
၂၀ ၏။- ထိုအခါရှောလုသည်၊ မြေပေါ်မှာအလျား
ပြပ်ဝပ်လဲနေ၍၊ ရှမွေလစကားကြောင့် အလွန်
ကြောက်ရွံ့၏၊ တနေ့နှင့်တညလုံး၊၊ အဘယ်
အစာကိုမျှ မစားဘဲ နေသောကြောင့် အားလျော့
၂၁ ပြီ။- ထိုမိန်းမသည်လာ၍၊ရှောလုအလွန်စိတ်ညစ်
သည်ကိုမြင်လျှင်၊ကိုယ်တော်ကျွန်မသည်ကိုယ်
တော်စကားကိုနားထောင်ပါပြီ၊ ကိုယ်အသက်
ကို မနှစ်မြောဘဲ၊ ကိုယ်တော် မိန့်တော်မူသော
၂၂ စကားကိုနားထောင်ပါပြီ။-သို့ဖြစ်၍၊ယခုကိုယ်
တော်ကျွန်မ၏ စကားကို နားထောင်တော်မူပါ။
ခရီးရောက်နိုင်အံ့သောငှါ အားရှိစေခြင်းငှါ
ကိုယ်တော် ကြွသွားသောအခါ အားပြည့်စေ
ခြင်းငှါ၊ စားတော်ခေါ်ပါဟု လျှောက် လေ
၂၃ သည်။-ရှောလုက၊ ငါမစားဟုငြင်းပယ်လေ၏
သို့ရာတွင်၊ ကျွန်တို့သည်မိန်းမနှင့်ပိုင်း၍ အနိုင်ပြု
ကြသဖြင့်၊ ရှောလု သည် သူတို့ စကား ကို နား
ထောင်၍၊ မြေပေါ်ကထပြီးလျှင်၊ ခုတင်ပေါ်မှာ
၂၄ ထိုင်လေ၏။- ထိုမိန်းမသည် မိမိအိမ်၌၊ ဆူဖြိုး
ကျွေးသော နွားကလေး တကောင် ရှိသည် ဖြစ်
၍၊ အလျင် အမြန် သတ်လေ၏၊ ဂျုံ ညက်ကို
လည်းယူ၍နယ်သဖြင့်၊တဆေးမဲ့မုန့်ကိုဖုတ်ပြီး
၂၅ မှ၊-ရှောလုနှင့်ကျွန်များတို့ရှေ့၌ တင်လေ၏။သူ
တို့သည်စား၍ထိုညဉ့်တွင်ထသွားကြ၏။

၂၉

၁ ဖိလိတ္တိလူတို့သည် မိမိဗိုလ်ခြေအပေါင်းတို့ကို
အာဖက်မြို့မှာစုဝေးစေကြ၏။ ဣသရေလလူတို့
သည်၊ ယေဇရေလ မြို့မှာရှိသော စမ်းရေတွင်း
၂ အနားသို့ တပ်ချကြ၏။- ဖိလိတ္တိမင်းတို့သည် လူ
တရာတပ်၊ တထောင်တပ် အစည် အတိုင်း ရှိ
သွားသဖြင့်၊ ဒါဝိဒ်နှင့်သူ၏လူတို့သည်၊ နောက်
တပ်၌ အာခိတ် မင်းနှင့် အတူ လိုက် ကြ ၏။-
၃ ဖိလိတ္တိမင်းတို့ကလည်း၊၊သင်နှင့်လိုက်သောထို
သူတို့သည် အဘယ်သူနည်းဟုမေးလျှင်၊ အာ
ခိတ်မင်းက၊ ဤသူ သည် ဣသရေလ ရှင်ဘုရင်
ရှောလု၏ ကျွန် ဒါဝိဒ် ဖြစ်သည် မဟုတ် လော။
ကြာမြင့်စွာ ငါ့ထံမှာနေပြီ၊ ငါ့ထံသို့ ရောက်သော
နေ့မှစ၍ ယနေ့တိုင်အောင်၊သူ၌အပြစ်တင်စရာ
တစုံတခုကိုမျှမတွေ့ဟု ဖိလိတ္တိမင်းတို့အားပြော
၄ ဆိုသော်လည်း- ဖိလိတ္တိမင်းတို့သည် မိတ်ဆိုး
လျှက်၊ဤသူပြန်ပါစေ၊ မင်းခန့်ထားသောအရပ်
သို့သွား၍နေပါစေ၊ ငါတို့နှင့် အတူ စစ်တိုက်မ
လိုက်စေနှင့်၊ စစ်တိုက်ရာတွင် ငါတို့ရန်ဘက်၌

နေမည်ကို မိုးမိုးမိစ်ရောမြိဏ်၊ သူသည် သူသခင်၏
မိတ်ကိုပြေစေခြင်းငှါအဘယ်သို့ပြုနိုင်သနည်း။
ငါတို့လူများ၏ အသက်ကိုအပ်၍ ပြုနိုင်ရာည်မ
၅ ထုတ်ထော၊- ရှောလုအထောင် ထောင်၊ ဒါဝိဒ်
အသောင်း သောင်း သတ်လေစွ တကားဟု အ
ဖျည်ဖျည်ကလျက်သီခြင်း ဆိုကြသောအခါ၊
ဤဒါဝိဒ်ကိုရည်စောင်၍၊ သီခြင်းဆိုကြသည် မ
၆ ထုတ်လောဟု၊ အပြစ်တင်သော့ကြောင့်၊- အာ
ခိတ်မင်းသည် ဒါဝိဒ်ကိုခေါ်၍၊ အကယ် စင်စစ်
ထာဝရဘုရားအသက်ရှင်တော်မူသည်အတိုင်း၊
သင်သည်ဖြောင့်မတ်စွာပြုပြီ၊ ငါနှင့်အတူတပ်
မှတစ်ရေး၌ သင်သွားလာပြုမူခြင်းကို ငါအား
ရပြီးသင်သည်ငထံသို့ရောက်သောနေ့မှစ၍၊ ယ
နေ့တိုင်အောင် သင်၌ အပြစ်ကိုမတွေ့၊ သို့သော်
ထည်း၊ ဖိလိတ္တိ မင်းတို့သည် သင့်ကို အလို မရှိ
၇ ကြ၊ သို့ဖြစ်၍၊ ယခုငြိမ်ဝပ်စွာပြန်သွားတော့၊ ဖိ
လိတ္တိမင်းတို့ကိုမိတ်ဆိုးစေခြင်းငှါ မပြုပါနှင့်ဟု
၈ ဆိုသော်၊ ဒါဝိဒ်ကကျွန်ုပ်တော်သည်ကျွန်တော်သ
ခင်ရှင်ဘုရင်၏ ရန်သူ တို့ကို စစ်တိုက် မသွားစေ
ခြင်းငှါအဘယ်သို့ပြုဘိသနည်း၊ ကိုယ်တော်ထံ
မှာနေသမျှကာလပတ်လုံး ယနေ့တိုင်အောင်၊ အ
ဘယ်အပြစ်ကိုတွေ့တော်မူသနည်းဟု၊ အာခိတ်
၉ မင်းအားမေးလျှောက်သော်၊- အာခိတ်မင်းက၊
သင်သည် ငရှေ့မှာ ဘုရား သခင်၏ ကောင်းကင်
တမန်ကဲ့သို့ ကောင်းသည်ကိုငါသိ၏၊ သို့သော်
ထည်း၊ ငါတို့နှင့်အတူစစ်တိုက်မလိုက်စေနှင့်ဟု၊
၁၀ ဖိလိတ္တိမင်းတို့သည်ဆိုရင်ကြပြီ၊- သို့ဖြစ်၍၊ သင်
နှင့်လိုက်လာသော သင့်သခင်၏ ကျွန်တို့နှင့် အ
တူ နံနက်စောစောထ၍၊ မိုးလင်းသောအခါ
ပြန်သွားတော့ဟု၊ ဒါဝိဒ်အား ဆိုသည်အတိုင်း၊-
၁၁ ဒါဝိဒ်နှင့် သူ၏လူတို့သည် နံနက်စောစောထ၍၊
ဖိလိတ္တိ ပြည်သို့ ပြန်သွားကြ၏၊ ဖိလိတ္တိ လူ တို့
သည်ထည်း၊ ယေဇရေလမြို့သို့ ချီသွားကြ၏၊

၃၀

၁ သုံးရက်လွန်၍၊ ဒါဝိဒ်နှင့်သူ၏ လူတို့သည် ဇိ
ကလတ်မြို့သို့ရောက်သောအခါ၊ အာမလက်လူ
တို့သည် တောင်ပြည်နှင့် ဇိကလတ်မြို့ကို တိုက်
သဖြင့်၊ ဇိကလတ် မြို့ကို လုပ်ကြံ၍ မီးရှို့နှင့် ကြ
၂ ပြီ၊- မြို့၌ ရှိသော မိန်းမအကြီး အငယ် တယောက်
ကိုမျှမသတ်၊ ရှိသမျှတို့ကိုသိမ်းသွားနှင့်ကြပြီ၊-
၃ သို့ဖြစ်၍၊ ဒါဝိဒ်နှင့်သူ၏လူတို့သည်မြို့သို့ရောက်
သောအခါ၊ မြို့ကိုမီးရှို့၍ မယားသားသမီးများကို
၄ သိမ်းသွားကြောင်းကို တွေ့သဖြင့်- ငိုသံကိုလွှင့်
၍ အားကုန်သည်တိုင်အောင် ငိုကြွေးကြ၏၊- ဒါ
ဝိဒ် မယား၊ နှစ်ယောက်၊ ယေဇရေလမြို့သူ အဟိ
နောင်နှင့်နာဗလမယား၊ ကရမေလမြို့သူအဘိဂဲ
၆ လ တို့သည်လည်း ပါသွားကြပြီ၊- ဒါဝိဒ်သည်
အလွန်စိတ်ပြင်းဆင်းရဲ၏၊ လူများတို့သည်မိမိ
တို့ သားသမီးများ ကြောင့်၊ စိတ် ညှိုးငယ်သဖြင့်၊
ဒါဝိဒ်ကို ကျောက်ခဲနှင့် ပစ်မည်ဟု ဆိုကြ၏၊ ဒါ
ဝိဒ်မူကား၊ မိမိဘုရားသခင်ထာဝရဘုရားကိုကိုး
၇ စား လျက် နေ၍- သင် တိုင်း တော် ကို ငထံ သို့
ဆောင်ခဲ့ပါလော့ဟု၊ အဟိမလက်၏သားအဗျာ
သာကိုဆိုလျှင်၊ အဗျာသာသည်သင်တိုင်းတော်
၈ ကိုဒါဝိဒ်ထံသို့ဆောင်ခဲ့လေ၏၊- ဒါဝိဒ်ကလည်း၊
အကျွန်ုပ် သည် ထိုအလုံး အရင်းကို လိုက်ရ ပါ
မည်လော၊ လိုက် လျှင် မှီနိုင် ပါမည် လောဟု၊
ထာဝရ ဘုရား ကို မေး လျှောက် သော်၊ လိုက်
လော့၊ ဆက်ဆက်မှီ၍ အလုံးစုံတို့ကိုရပြန်မည်
၉ ဟုမိန့်တော်မူသည်အတိုင်း၊- ဒါဝိဒ်နှင့် သူ၌ပါ
သောလူခြောက်ရာတို့သည် သွား၍၊ ဗေသော်
ချောင်းသို့ ရောက်သောအခါ၊ အကျွန်ုပ်တို့သည်ထို
၁၀ ချောင်းနားမှာ နေရစ်ကြ၏၊- ဒါဝိဒ်နှင့် လူလေး
ရာတို့သည် လိုက် ကြ၏၊ နှစ်ရာ တို့သည် မောရ်၍
ဗေသော် ချောင်းကို မကူး နိုင် သော့ ကြောင့်နေ
၁၁ ရစ်ကြ၏၊- လွင်ပြင်၌ အဲဂုတ္တုလူ တယောက်ကို
တွေ့၍၊ ဒါဝိဒ်ထံသို့ဆောင်ခဲ့သဖြင့်၊ မုန့်ကိုပေး၍
ထိုသူသည် စား၏၊ ရေကိုထည်း သောက်စေကြ
၁၂ ၏၊- သင်္ဘောသဖန်းသီးပျဉ်တခဲ၊ စပျစ်သီးနှစ်
ပြွတ်ကိုထည်းပေး၍၊ သူသည်စားသဖြင့်၊ အား
ပြည့်ပြန်၏၊ သုံးရက်ပတ်လုံးမစားမသောက်ဘဲ
၁၃ နေ၍ မှတ်ခဲ့ပြီ၊- ဒါဝိဒ်ကထည်း၊ သင်သည် အ
ဘယ်သူနှင့်ဆိုင်သနည်း၊ အဘယ်အရပ်ကလာ
သနည်းဟု မေးလျှင်၊ ကျွန်တော် သည် အာမ
လက်လူထံ၌ ကျွန်ခံရသော အဲဂုတ္တုလူကလေး
ဖြစ်ပါ၏၊ သုံးရက်အထက်ကဘနာရောက်သော့
၁၄ ကြောင့်သခင်သည်ပြစ်ထားပါ၏၊- ခေရသိပြည်
တောင်ပိုင်း၊ ယုဒပြည်နှင့်ကာလက်ပြည်တောင်
ပိုင်းကို တိုက်၍၊ ဇိကလတ် မြို့ကို မီးရှို့ ပါပြီဟု
၁၅ ပြောဆို၏၊- ဒါဝိဒ်ကထည်း၊ ထိုအလုံးအရင်း၊ရှိ
ရာသို့ လမ်းပြ နိုင် သလော ဟု မေးလျှင် သူက၊
ကိုယ်တော်သည် ကျွန်တော်ကို မသတ်၊ သခင်
လက်သို့မအပ်မည်အကြောင်း၊ ဘုရားသခင်ကို
တိုင်တည်၍ ကျိန်ဆို ပါတော့၊ သို့ပြုလျှင်၊ ထို

အလုံးအရင်းရှိရာသို့လမ်းပြပါမည်ဟုဆိုသည်
အတိုင်း၊ ဒါဝိဒ်သည်ကျွန်ဆိုခြင်းကိုပြုလေ၏။
၁၆ လူကလေးသည်လမ်းပြ၍ဒါဝိဒ်ရောက်သော
အခါ၊ ထိုလူများတို့သည် ဖိလိတ္တိပြည်နှင့် ယုဒ
ပြည်ထဲက၊ သိမ်းယူသော ဥစ္စာပစ္စည်းများအ
ပေါင်းတို့ကြောင့်၊ စားသောက်လျက်၊ ကခုန်
၁၇ လျက်မြေတပြင်လုံး၌ အနှံ့အပြားရှိကြ၏။- ဒါ
ဝိဒ်သည်လည်း ညဦးမှစ၍၊ နက်ဖန်ညဦးတိုင်
အောင်သူတို့ကိုလုပ်ကြံသဖြင့်၊ ကုလားအုတ်ကို
စီး၍ ပြေးသော လုလင် လေးရာမှ တပါး လူ တ
၁၈ ယောက်မျှ မလွတ်။- အာမလက် လူ တို့ သည်
သိမ်းသွားသမျှတို့ကို ဒါဝိဒ်သည် ရပြန်၍၊ မိမိ
မယားနှစ်ယောက်ကိုလည်းကယ်နှုတ်လေ၏။-
၁၉ လူအကြီးအငယ်၊သားသမီး၊ ဥစ္စာပစ္စည်း၊ လုယူ
သိမ်းသွားသမျှတို့တွင်၊ တစုံတခုမျှမကျန်၊ အ
၂၀ လုံးစုံတို့ကိုဒါဝိဒ်သည်ရပြန်လေ၏။-ဒါဝိဒ်သည်
လည်း၊ထိုသိုးနွားများရှေ့မှ၊အရင်နှင်သောသိုး
နွားအပေါင်းတို့ကိုထည်းယူ၍၊ဤဥစ္စာသည်ဒါ
ဝိဒ်ပိုင်သောလက်ရဥစ္စာဖြစ်သည်ဟုဆို၏။
၂၁ မော၍ဒါဝိဒ်နောက်သို့ မလိုက်နိုင်၊ ဗေသော်
ချောင်းနားမှာ နေရစ်သော လူနှစ်ရာ ရှိရာသို့ ဒါ
ဝိဒ်ရောက်၍၊သူတို့သည်ဒါဝိဒ်နှင့်သူ၌ ပါသော
လူတို့ကို၊ခရီးဦးကြို ပြုလိုသော၄ါထွက်ထသော
ဖြင့်၊ ဒါဝိဒ်သည် အနီးသို့ရောက်သောအခါ၊ သူ
၂၂ တို့ကို နှုတ်ဆက် လေ၏။- ဒါဝိဒ် နှင့် လိုက် သွား
သောသူတို့တွင်၊ အဓမ္မလူဆိုးများတို့က၊ ဤသူ
တို့ သည် ငါတို့ နှင့် မလိုက်သောကြောင့်၊ ငါတို့
ရသော ဥစ္စာတို့တွင် သူတို့သားမယားမှ တပါး၊
အခြားသော ဥစ္စာကိုသူတို့အားမပေးရ။ ကိုယ်
သားမယားကိုယူ၍ ထွက်သွားကြစေဟု ဆိုကြ
၂၃ ၏။- ဒါဝိဒ်ကလည်း၊ ငါ့ညီ အစ်ကိုတို့၊ ငါတို့ကို
စောင့်မ၍၊ ငါတို့ကို တိုက်ထသော အလုံးအ
ရင်းကို ငါတို့လက်သို့ အပ်တော်မူသော ထာဝ
ရဘုရား ပေးသနားတော်မူသော ဥစ္စာကို ထိုသို့
၂၄ မပြုရ။- ဤအမှု၌ သင်တို့ စကားကို အဘယ်သူ
နားထောင်လိမ့်မည်နည်း။ စစ်တိုက် သွားသော
သူ ရသည်အတိုင်း၊ ဥစ္စာကိုစောင့်လျက် နေရစ်
သောသူရစေ။ နှစ်ပါး စလုံးတို့သည် အညီအမျှ
၂၅ ခံစေဟုစီရင်၏။- ထိုနေ့မှစ၍ယနေ့တိုင်အောင်၊
ဣသရေလအမျိုး၌ထိုသို့သောထုံးစံဖြစ်စေခြင်း
ငှါစီရင်ထုံးဖွဲ့သတည်း။
၂၆ ဒါဝိဒ်သည် ဇိကလတ်မြို့သို့ ရောက် သော
အခါ၊ ထက်ရဥစ္စာအချို့ကို မိမိအဆွေခင်ပွန်း၊
ယုဒအမျိုးအသက်ကြီးသူတို့ထံသို့ပေးလိုက်၍၊
ထာဝရဘုရား၏ရန်သူထက်မှရခဲ့သောဥစ္စာထဲ
က၊သင်တို့အဖို့ ထက်ဆောင်ကိုကြည့်လော့ဟု
၂၇ မှာလိုက်၏။- ဗေသလ မြို့၊ တောင်ရာမုတ် မြို့၊
၂၈ ယတ္တိယမြို့၊- အာရော်မြို့၊ရှိဖမုတ်မြို့၊ဧရှတမော
၂၉ မြို့၊-ရာခလမြို့၊ယေရမေလလူနေရာမြို့များ၊ကေ
၃၀ နိလူနေရာ မြို့များ၊- ဟောမာ မြို့၊ ခေါရာရှန် မြို့၊
၃၁ အာသက်မြို့၊- ဟေဗြုန်မြို့မှစ၍၊ ဒါဝိဒ်နှင့် သူ၏
လူတို့သည်တည်းခိုတတ်သောမြို့ရွာအရပ်ရပ်
သို့ပေးလိုက်သတည်း။

၃၁

၁ ဖိလိတ္တိ လူတို့ သည် ဣသရေလ လူတို့ကို စစ်
တိုက်၍၊ ဣသရေလလူတို့သည်ရန်သူရှေ့မှာပြေး
သဖြင့်၊ဂိလဗောတောင်ပေါ်မှာအထိအခိုက်နှင့်
၂ လဲ၍သေကြ၏။-ဖိလိတ္တိလူတို့သည်ရှောလုမင်း
နှင့်သူ၏ သားတို့ကို ပြင်းထန်စွာ လိုက်၍၊ ရှော
လု၏ သားယောနသန်၊ အဘိနဒပ်၊ မေလခိရှုတို့
၃ ကိုသတ်ကြ၏။- စစ်တိုက် ရာတွင် ရှောလု သည်
အလွန်ခံရ၏၊လေးသမားတို့ပြစ်သောမြှားမှန်၍
၄ အလွန် နာသောကြောင့်- ထက်နက် ဆောင်လု
လင်ကိုခေါ်ပြီးလျှင်၊ သင့်ထားကိုထုတ်၍ငါ့ကို
ထိုးလော့၊ သို့မဟုတ်၊ အရေဖျားလှီးခြင်းကိုမခံ
သော လူတို့သည်လာ၍ ငါ့ကိုထိုးပြီးမှ၊ မရိုမသေ
ညှဉ်းဆဲကြလိမ့်မည်ဟု ဆိုသော်လည်း၊ ထက်
နက်ဆောင်လုလင်သည်အလွန်ကြောက်၍ မပြု
ဘဲနေသောကြောင့်၊ ရှောလုသည်ထိုထားကိုထု
၍ ထောင် ပြီးလျှင်၊ ထားဖျား ပေါ်မှာလှဲ၍ သေ
၅ ၏။- ရှောလု သေ သည်ကို ထက်နက် ဆောင် လု
လင်မြင်လျှင်၊ သူသည်ထဲ၌၊ထိုထားကိုထောင်
၍၊ရှောလုနှင့်အတူ ထားဖျားပေါ်မှာလှဲ၍ သေ
၆ ၏။-ထိုသို့ရှောလုမှစ၍၊ သူ၏သားသုံးယောက်၊
သူ၏လက်နက်ဆောင်လုလင်၊သူ၏လူအပေါင်း
တို့သည်၊ထိုနေ့ချင်းတွင်အတူသေကြ၏။
၇ ဣသရေလလူပြေးကြောင်း၊ ရှောလုနှင့်သူ၏
သားများသေကြောင်းကိုချိုင့်တဖက်၊ယော်ဒန်
မြစ်တဖက်၌နေသောဣသရေလလူတို့သည်သိ
မြင်လျှင်၊မြို့ရွာတို့ကို စွန့်ပြေးသဖြင့်၊ဖိလိတ္တိလူ
၈ တို့သည်လာ၍ နေကြ၏။- နက်ဖန်နေ့၌ဖိလိတ္တိ
လူတို့သည်၊အသေကောင်တို့၌အဝတ်တန်ဆာ
ကိုချွတ်ခြင်းငှါလာသောအခါ၊ဂိလဗောတောင်
ပေါ်မှာ၊ ရှောလုနှင့် သူ၏သား သုံးယောက် ထို

သည် လဲသေလျက် ရှိသည်ကို တွေ့မြင်ကြ၏။-
၉ ရှောလု၏ ခေါင်းကို ဖြတ်၍ လက်နက် တော်ကို
ချွတ်ပြီးမှ၊ သူတို့ရုပ်တုကျောင်းများ၌၎င်း၊ လူ
များတို့၌၎င်း သိတင်းကျော်စေခြင်းငှါ၊ ဖိ
၁၀ လိတ္တိပြည်အရပ်ရပ်သို့ပေးလိုက်ကြ၏။-လက်
နက် တော် ကိုလည်း အာရှတရက် ကျောင်း၌
ထား၍၊ အလောင်းတော်ကို ဗက်ရှန်မြို့ရိုး၌ ဆွဲ
ထားကြ၏။

၁၁ ရှောလု၌ဖိလိတ္တိလူတို့ပြုသောအမှုကို၊ ဂိလဒ်
၁၂ ပြည်ယာဗက်မြို့သားများကြားလျှင်၊-သူရဲအ
ပေါင်းတို့သည်ညဉ့်အခါထသွား၍၊ရှောလု၏
အလောင်းနှင့် သူ၏သားအလောင်းတို့ကိုဗက်
ရှန်မြို့ရိုးမှချပြီးလျှင်၊ယာဗက်မြို့သို့ ဆောင်ခဲ့၍
၁၃ မီး၌ရှို့ကြ၏။- အရိုးတို့ကိုလည်းယူ၍၊ ယာဗက်
မြို့မှာ ထင်းပင်အောက်၌ သင်းဂြိုဟ်ပြီးမှ၊ ခုနစ်
ရက်ပတ်လုံးအစာရှောင်ကြ၏။

ဓမ္မရာဇဝင်ပဌမစောင်ပြီး၏။

# ဓမ္မရာဇဝင်ဒုတိယစောင်။

## SECOND BOOK OF SAMUEL.

### ၁

၁ ရှောလုသေသောနောက်၊ ဒါဝိဒ်သည် အာမ
လက် လူတို့ကို လုပ်ကြံ ရာမှ ပြန်လာ၍၊ ဇိက
၂ လတ်မြို့၌နှစ်ရက်နေပြီးလျှင်- သုံးရက်မြောက်
သောနေ့တွင်၊ လူတယောက်သည် မိမိအဝတ်
ကိုဆုတ်လျက်၊မိမိခေါင်းပေါ်မှာမြေမှုန့်ကိုတင်
လျက်၊ရှောလုတပ်ကလာ၍ဒါဝိဒ်ထံသို့ရောက်
၃ သော်၊မြေပေါ်မှာပြပ်ဝပ်လျက်ရှိခိုး၏။- ဒါဝိဒ်
ကလည်း၊အဘယ်အရပ်ကလာသနည်းဟုမေး
လျှင်၊ ထိုသူက၊ကျွန်တော်သည်ဣသရေလတပ်
၄ ကပြေး၍ လာပါသည်ဟု လျှောက်လေ၏။- ဒါ
ဝိဒ်ကလည်း၊အမှုကားအဘယ်သို့နည်း၊ငါ့အား
ပြောပါလော့ဟုမေးလျှင်၊ သူက၊ဣသရေလလူ
တို့သည်စစ်တိုက်ရာတွင်ပြေး၍၊ အများတို့သည်
လဲလျက်သေပါပြီ၊ ရှောလုနှင့်သားတော်ယော
နသန်လည်းသေပါပြီဟု ပြန်လျှောက်လေ၏။-
၅ ထိုသိတင်းကို ကြားပြောသော လုလင်အား ဒါ
ဝိဒ်က၊ ရှောလုနှင့် သားတော် ယောနသန်သေ
ကြောင်းကို၊ သင်သည် အဘယ်သို့ သိသနည်း
၆ ဟုမေးပြန်လျှင်- ထိုလုလင်က၊ကျွန်တော်သည်
ဂိလဗောတောင်ပေါ်သို့ အလိုလို ရောက်သော
အခါ၊ ရှောလုသည် လှံတော်ကိုထောက်၍နေပါ
၏၊ရထားစီးသူရဲ၊မြင်းစီးသူရဲတို့သည်ပြင်းထန်
၇ စွာ လိုက်ကြ၏။- ရှောလုသည် နောက်တော်သို့
ကြည့်သဖြင့်၊ ကျွန်တော်ကို မြင်၍ ခေါ်ပါ၏။-
၈ ကျွန်တော် ရှိပါသည်ဟု လျှောက် သော အခါ၊
သင်သည် အဘယ်သူ နည်း ဟု မေးလျှင်၊ ကျွန်
တော်သည် အာမလက် လူ ဖြစ်ပါ သည်ဟု ပြန်
၉ လျှောက်ပါ၏။- ရှောလုကလည်း၊ ငါ့ထံသို့လာ
၍ငါ့ကိုသတ်ပါတော့၊ အသက်မသေနိုင်သော့
ကြောင့်၊ ပြင်းစွာသော ဝေဒနာကို ခံရ၏ ဟု ဆို
၁၀ သည် အတိုင်း- လဲ သော နောက် အ သက် မရှင်
နိုင်သည်ကိုကျွန်တော်သိလျှင်၊သူထံသို့သွား၍
သတ်ပါ၏၊ ခေါင်းတော်၌ ဆောင်းသော ဦးရစ်
နှင့်လက်ရုံးတော်၌ဝတ်သောလက်ကောက်ကို
ချွတ်ယူပြီး လျှင်၊ ကျွန် တော် သခင် ထံတော်သို့
၁၁ ဆောင်ခဲ့ ပါသည်ဟု လျှောက်လေ၏။- ထိုအခါ
ဒါဝိဒ်သည် မိမိအဝတ်ကိုဆွဲဆုတ်၍၊ သူ၏လူအ
၁၂ ပေါင်းတို့သည်ထိုနည်းတူပြုကြ၏။-ရှောလုမှစ
၍ သားတော် ယောနသန်၊ ထာဝရ ဘုရား၏လူ
များ၊ ဣသရေလ အမျိုးသားများတို့သည် ထား
ဖြင့်လဲသေသော့ကြောင့်၊ သူတို့အတွက် ညဦး
တိုင်အောင်ငိုကြွေးမြည်တမ်း၍ အစာကိုရှောင်
၁၃ ကြ၏။- ထိုသိတင်းကို ကြား ပြောသော လုလင်
အား၊ဒါဝိဒ်က၊ သင်သည် အဘယ် အရပ်က လာ
သနည်းဟုမေးလျှင်၊ ထိုသူက၊ ကျွန်တော် သည်

တပါး အမျိုးသား၊ အာမလက်လူ ဖြစ်ပါ၏ဟု
၁၄ ပြန်လျှောက်သော်၊-ဒါဝိဒ်က၊ ထာဝရဘုရား၏အ
ခွင့်နှင့် ဘိသိတ်ခံသော သူကို သတ်ခြင်းငှါ၊
သင့်လက်ကို အဘယ်သို့ ဆန့်ဝံ့သနည်းဟု ဆို
၁၅ လျှက်-လုလင်တယောက်ကိုခေါ်၍၊ သူကိုသွား
သတ်တော့ဟု ဆိုသည်အတိုင်း၊ လုလင်သည်
၁၆ လုပ်ကြံ၍သတ်လေ၏။-ဒါဝိဒ်ကလည်း၊ သင်၏
အသွေးသည် သင့်ခေါင်းပေါ်မှာ တည်စေ၊ ထာ
ဝရဘုရား၏အခွင့်နှင့် ဘိသိတ်ခံသောသူကိုကျွန်
တော်သတ်ပါပြီဟု၊ သင့်နှုတ်သည်သင့်တဘက်
၌သက်သေခံလေပြီဟု ဆို၏။
၁၇ ဒါဝိဒ်သည်ရှောလုနှင့်သားတော်ယောနသန်
၁၈ ကြောင့်ငိုကြွေးမြည်တမ်း၍- ယုဒအမျိုးသား
တို့အား သင်စေသော လေးသီခြင်းတည်းဟူ
သော၊ ယာရှာစာ၌ ပါသော သီခြင်းစကား တည်း
၁၉ ဟူ။- ဣသရေလဂုဏ်အသရေ၊ သင်၏မြင့်
သောအရပ်တို့၌ သင်သည်အသေခံလေပြီ၊ သူရဲ
၂၀ တို့သည်လဲသေကြပြီတကား။-ဖိလိတ္တိအမျိုး၊
သမီးတို့ မပျော်မြူးကြစေခြင်းငှါ၊ အရေဖျားလှီးခြင်းကို မခံ
သောအမျိုးသမီးတို့မဝမ်းမြောက်ကြစေခြင်းငှါ၊ ဂါသမြို့၌ မပြောကြနှင့်၊ အာရှကေလုန်မြို့လမ်းတို့
၌မကြား မပြောကြနှင့်၊ ဖိလိတ္တိအမျိုး သမီးတို့
သည် ဝမ်းမြောက်၍၊ အရေဖျားလှီးခြင်းကို မခံ
သောအမျိုးသမီးတို့သည် ရွှင်လန်းကြလိမ့်မည်
၂၁ ဟုမိုးမိုးရိပ်စရာရှိ၏။-ဂိလဗောတောင်တို့၊ သင်
တို့အပေါ်မှာ နှင်းမကျစေနှင့်၊ မိုဃ်းမရွာစေ
နှင့်၊ ပူဇော်စရာအသီးကိုသီးသောလယ်ကွက်မ
ရှိစေနှင့်၊ အကြောင်းမူကား၊ ထိုအရပ်၌ သူရဲ
ဆောင်သောဒိုင်းတည်းဟူသော ရှောလုဆောင်
သောဒိုင်းလွှင့်ပစ်၍၊ ဆီနှင့်လိမ်းပြီးသော ထက်နှုတ်
၂၂ တော်ကို ရှုတ်ချလေပြီ တကား။- သူရဲတို့၏ အ
သွေး၊ ခွန်အားကြီးသောသူတို့၏ ဆီဥမှယောန
သန်၏ လေးသည် နောက်သို့ မလှန်၊ ရှောလု၏
ထားတော်သည် ကိုယ်ချည်းပြန်၍မလာတတ်။-
၂၃ ရှောလုနှင့် ယောနသန်သည် ချစ်တတ်သောသ
ဘောရှိ၍၊ အသက် ရှင်စဉ် အခါ မိတ်ဆွေဖြစ်
လျှက်၊ အသက် သေသောအခါ တယောက်နှင့်
တယောက်မကွာဘဲလျှက်နေကြ၏။-သူတို့သည်
ရွှေလင်းတထက်မြန်၍၊ ခြင်္သေ့ထက် ခွန်အား
၂၄ ကြီးကြ၏။-ဣသရေလ အမျိုးသမီးတို့၊ ရှောလု
ကိုငိုကြွေးကြလော့။ သင်တို့ကို လှသောကမ္ဗလာ
နီနှင့် ဝတ်စေ၍၊ သင်တို့အဝတ်၌လည်း ရွှေတန်
၂၅ ဆာနှင့်ဆင်စေတော်မူ၏။-စစ်တိုက်ပွဲ၌၊ သူရဲတို့
သည် လဲသေကြပြီ၊ ဪ ယောနသန်၊ သင်၏မြင့်
သော အရပ်တို့၌၊ သင်သည် အသေခံလေပြီ တ
၂၆ ကား။- ငါ့ညီ ယောနသန်၊ သင့်ကြောင့် ငါ ညှိုး
ငယ်ခြင်းရှိ၏၊ သင်သည်ငါ့မိတ်ဆွေ ကြီးဖြစ်၍၊
ငါ့ကိုချစ်သောမေတ္တာသည် အံ့ဩဖွယ်သော
မေတ္တာ၊ မိန်းမကိုချစ်တတ်သော မေတ္တာထက်သာ
၂၇ ၍ အားကြီးသောမေတ္တာဖြစ်၏။- သူရဲတို့သည်
လဲ သေ ကြပြီ တကား၊ စစ်တိုက် လက်နက်တို့
သည်ဆုံးကြပြီတကားဟုပါသတည်း။

၂

၁ ထိုနောက်၊ ဒါဝိဒ်က၊ အကျွန်ုပ်သည်ယုဒမြို့တ
စုံတမြို့သို့သွားရပါမည်လောဟု၊ ထာဝရဘုရား
ထံတော်၌မေးလျှောက်လျှင်၊ ထာဝရဘုရားက
သွားလော့ဟုမိန့်တော်မူ၏။ ဒါဝိဒ်ကလည်း၊ အ
ဘယ်မြို့သို့သွားရပါမည်နည်းဟုမေးလျှောက်
သော်၊ ဟေဗြုန်မြို့သို့သွားလော့ဟု မိန့်တော်မူ
၂ သည်အတိုင်း- ဒါဝိဒ်သည် မယားနှစ်ယောက်၊
ယေဇရေလမြို့သူအဟိနောင်၊ နာဗလ၏မယားက
ရမေလမြို့သူ အဘိဂဲလ တို့နှင့်တကွ သွားလေ
၃ ၏။- မိမိ၌ ပါသောလူများ၊ ထိုလူ၏အိမ်ထောင်များတို့
ကိုလည်း၊ ဒါဝိဒ်သည်ခေါ်ခဲ့၍ သူတို့သည် ဟေ
၄ ဗြုန်မြို့ရွာတို့၌နေကြ၏။-တဖန်ယုဒလူတို့သည်
လာ၍ ဘိသိတ်ပေးသဖြင့်၊ ဒါဝိဒ်ကို ယုဒ ရှင်
ဘုရင်အရာ၌ချီးမြှောက်ကြ၏။
ဂိလဒ်ပြည်ယာဘက်မြို့သားတို့သည်၊ ရှောလု
ကိုသင်္ဂြိုဟ်ပါပြီဟု ဒါဝိဒ်အား ကြားလျှောက်
၅ သော်၊ ဂိလဒ်ပြည် ယာဘက်မြို့သားတို့ ရှိရာသို့
တမန်တို့ကိုစေလွှတ်၍၊ သင်တို့သည်သင်တို့အ
ရှင်ရှောလု၌ကရုဏာကျေးဇူးပြု၍၊ အလောင်း
တော်ကိုသင်္ဂြိုဟ်သောကြောင့်၊ ထာဝရဘုရား
ပေးတော်မူသောကောင်းကြီးမင်္ဂလာကိုခံရကြ
၆ ပါစေသော။-ထာဝရဘုရားသည်သင်တို့၌ကရု
ဏာကျေးဇူး၊ သစ္စာကျေးဇူးပြုတော်မူပါစေ
သော။ သင်တို့သည် ဤအမှုကို ပြုသောကြောင့်၊
၇ သင်တို့ကျေးဇူးကိုငါလည်းဆပ်မည်။-ယခုမှာ
အားယူ၍ ရဲရင့်ခြင်း သတ္တိရှိကြလော့။ သင်တို့
အရှင် ရှောလုသေပြီ။ ယုဒ အမျိုး သားတို့သည်
ဘိသိတ်ပေး သဖြင့်၊ ငါ့ကိုရှင်ဘုရင် အရာ၌ချီး
မြှောက်ကြပြီဟု မှာလိုက်လေ၏။
၈ သို့ရာတွင်၊ ရှောလု၏ဗိုလ်ချုပ်မင်းနေရသား
အာဗနာသည်၊ ရှောလုသားဣရှဗောရှက်ကိုယူ
၍မဟာနိမ်မြို့သို့ဆောင်သွားပြီးလျှင်၊- ဂိလဒ်
ပြည်၊ အာရှာ အမျိုးသားများ၊ ယေဇရေလ မြို့

ထား၊ ရှား၊ ဧဖရိမ် ခရိုင်၊ ဗင်္ယာမိန် ခရိုင် အစ ရှိ
သော ဣသရေလ နိုင်ငံ လုံးကို အစိုးရသော ရှင်
၁၀ ဘုရင်အရာ၌ချီးမြှောက်လေ၏။- ရှောလု၏သား၊
ဣရှဗောရှက်သည်အသက်လေးဆယ် ရှိသော်၊
ဣသရေလနိုင်ငံကိုအစိုးရ၍ နှစ်နှစ်စိုးစံလေ၏၊
ယုဒအမျိုးမူကား၊ ဒါဝိဒ်နောက်သို့လိုက်ကြ၏။-
၁၁ ဒါဝိဒ်သည် ဟေဗြုန်မြို့၌ နေ၍ ယုဒအမျိုးကိုအ
စိုးရသောနှစ်ပေါင်းကား၊ ခုနစ်နှစ်နှင့် ခြောက်
လဖြစ်သတည်း။
၁၂ တစ်နေ့ရသား အာဗနာသည် ရှောလုသား၊
ဣရှဗောရှက်၏ကျွန်များနှင့်တကွ မဟာနိမ်မြို့
၁၃ မှ ဂိဗောင်မြို့သို့သွား၍- ဇေရုယာသား ယွာဘ
နှင့်ဒါဝိဒ်၏ကျွန်တို့သည်ဆီးကြိုသဖြင့်၊ဂိဗောင်
ရေကန်အနားမှာဆုံမိလျက်၊ ရေကန်တစ်ဖက်တ
၁၄ ချက်၌ထိုင်ကြ၏။- အာဗနာကလည်း၊ လုလင်
တို့သည်ထ၍ ငါတို့ရှေ့မှာ ကစားကြပါစေ
ဟု ဆိုသော်၊ ယွာဘက ထကြပါစေဟု ဆို
၁၅ သည် အတိုင်း၊- ရှောလုသား ဣရှဗောရှက် ၏
လူ၊ဗင်္ယာမိန်အမျိုးသားတကျိပ်နှစ်ယောက်နှင့်
ဒါဝိဒ်၏ကျွန် တကျိပ်နှစ်ယောက်တို့သည် ထ၍
၁၆ ကူးသွားကြ၏။- သူတို့သည် လုချင်းတိုက်၍၊ လု
လင်၊ မိမိ တိုက်ဖက်၏ ခေါင်းကို ကိုင်လျက်၊ နံ
စေးကို ထားနှင့် ထိုးလျက်၊ တစုတည်း လဲသေ
ကြ၏၊ သို့ဖြစ်၍၊ ဂိဗောင် မြို့ နယ် ၌ ရှိသော ထို
အရပ် ကို ဟေလကာသဇ္ဇုရိမ်ဟူသော အမည်
၁၇ မြင့်သမုတ်ကြ၏။- ထိုနေ့၌ ပြင်းစွာစစ်တိုက်၍
အာဗနာနှင့် ဣသရေလ လူတို့သည်၊ ဒါဝိဒ် ၏
၁၈ ကျွန်တို့ရှေ့မှာ ရှုံးကြလေ၏။- ဇေရုယာ သား
သုံးယောက်၊ ယွာဘ၊ အဘိရှဲ၊ အာသဟေလပါ
ကြ၏၊ အာသဟေလသည် တော၌ ကျင်လည်
၁၉ သော ဇရယ်ကဲ့သို့ လျင်မြန်၏။- အာသဟေလ
သည်လက်ျာဘက်လက်ဝဲဘက်သို့မလွှဲ၊ အာဗ
၂၀ နာကိုလိုက်၏။-အာဗနာသည်နောက်သို့ကြည့်
၍၊ သင်သည်အာသဟေလ မှန်သလောဟုမေး
၂၁ သော်၊ မှန်သည်ဟု ပြန်ပြော၏။- အာဗနာ က
လည်း၊ လက်ျာ ဘက် သော် ၎င်း၊ လက်ဝဲ ဘက်
သော်၎င်း လှည့်သွားလျက်၊ လုလင် တယောက်
ကိုဖမ်းဆီး၍သူ၏လက်နက်စုကိုလုယူလော့ဟု
ဆိုသော်လည်း၊ အာသဟေလသည်မလှည့်ဘဲ
၂၂ လိုက်သော၏။- တဖန် အာဗနာက ငါ့ကိုမလိုက်
နှင့်၊ လှည့်သွား၊ တော့၊ သင့်ကို မြေပေါ်သို့ အ
ဘယ်ကြောင့်ငါသတ်ရမည်နည်း၊ သို့ပြုလျှင်၊ သင့်
အစ်ကိုယွာဘရှေ့မှာငေါက်နှာကိုအဘယ်သို့ငါ
၂၃ ပြနိုင်မည်နည်းဟု ဆိုသော်လည်း၊ အာသဟေ
လသည် နား မထောင် သော ကြောင့်၊ အာဗနာ
သည် နောက်သို့လှံနှင့်ထိုးလျှင်၊ ဝမ်း၌ လှံဖျား
ဝင်၍ကြောကိုထုတ်ချင်းဖောက်သဖြင့်၊ အာသ
ဟေလ သည် လဲ၍ ထိုအရပ်၌ သေ၏၊ အာသ
ဟေလ လဲ၍ သေ သော ထိုအရပ် သို့ ရောက်
၂၄ သော သူအပေါင်းတို့သည် ရပ်နေကြ၏။- ယွာ
ဘနှင့်အဘိရှဲသည်အာဗနာကိုလိုက်၍ဂိဗောင်
တောသို့ သွားသောလမ်းနား၊ ဂိအာမြို့ရှေ့မှာရှိ
သောအမ္မတောင်သို့ရောက်သောအခါနေဝင်၏၊
၂၅ ဗင်္ယာမိန်အမျိုးသားတို့သည်အာဗနာနောက်
၌စုဝေး၍တတပ်တည်းဖွဲ့လျက်၊တောင်ပေါ်မှာ
၂၆ ရပ်နေ ကြ၏။- ထိုအခါ အာဗနာက ယွာဘကို
ခေါ်၍၊ ထားလွှားသည်အစဉ်မပြတ်ကိုက်စား
ရမည်လော၊ နောက်ဆုံး၌ခါးသောအရသာကို
တွေ့လိမ့်မည်ဟုမသိသလော၊ လူများတို့သည် ညီ
အစ်ကိုတို့ကိုမလိုက်၊ ပြန်စေမည် အကြောင်း၊
သင်သည် အဘယ် မျှကာလ ပတ်လုံး မစီရင်ဘဲ
၂၇ နေမည်နည်းဟု ဆိုလျှင်- ယွာဘက ဘုရားသ
ခင်အသက်ရှင်တော်မူသည်အတိုင်း၊ သင်မပြော
လျှင်၊ မိုဃ်းလင်းမှသာ လူများတို့သည်ညီအစ်
ကိုတို့ကိုမလိုက်ဘဲနေကြလိမ့်မည်ဟုဆိုလျက်၊-
၂၈ တံပိုးမှုတ်၍ လူများတို့သည် ဣသရေလအမျိုး
သားတို့ကိုမလိုက်၊စစ်မတိုက်ဘဲရပ်နေကြ၏။-
၂၉ အာဗနာနှင့် သူ၏လူတို့သည်တညဉ့်လုံး လွင်
ပြင်သို့ရှောက်သွား၍၊ ယော်ဒန်မြစ်ကို ကူးပြီး
လျှင်၊ ဗိသရုန်ပြည်ကို လွန်၍ မဟာနိမ် မြို့သို့
၃၀ ရောက်ကြ၏။- ယွာဘ သည် လည်း၊ အာဗနာ
ကိုလိုက်ရာမှပြန်၍ လူအပေါင်းတို့ကို စုဝေးစေ
သောအခါ၊ အာသဟေလနှင့် ဒါဝိဒ်၏ကျွန်တ
၃၁ ကျိပ် ကိုးယောက်တို့သည်မရှိ၊ ဆုံးကြပြီ။- ဒါ
ဝိဒ်၏ကျွန်တို့သည် ဗင်္ယာမိန်အမျိုးသား၊ အာဗ
နာ၏လူ သုံးရာ ခြောက်ဆယ် တို့ကို သေ စေအောင်
၃၂ လုပ်ကြကြပြီ။- အာသဟေလ၏ အလောင်းကို
ထမ်းသွား၍ဗက်လင်မြို့၌ရှိသောသူအဘ၏သင်း
ချိုင်းတွင်သင်္ဂြိုဟ်ကြ၏၊ယွာဘနှင့်သူ၏လူတို့
သည် တညဉ့် လုံး သွား၍၊ မိုဃ်းလင်းစွင်
ဟေဗြုန်မြို့သို့ရောက်ကြ၏။

၃

၁ ရှောလုအမျိုးနှင့် ဒါဝိဒ် အမျိုးတို့သည် ကြာ
မြင့်စွာ စစ်တိုက်၍၊ ဒါဝိဒ်သည် အား ထိုးပွား

ကျော်၊ ရှောလုအမျိုးသည်အားငယ်လျော့လျက်
၂ ရှိကြ၏။- ဟေဗြုန်မြို့၌ ဒါဝိဒ်မြင်သောသားတို့
တွင်သားဦးကား၊ယေဇရေလမြို့သူအဟိနောင်
၃ တွင် မြင်သောသား အာမနုန်တည်း။- ဒုတိယ
သားကား၊နာဗလမယား၊ကရမေလမြို့သူအဘိ
ဂဲလတွင်မြင်သောသားခိလပ်တည်း။ တတိယ
သားကား၊ ဂေရှုရိရှင်ဘုရင် တာလမဲ၏သမီးမာခါ
၄ ၏သား အဗရှလုံတည်း။- စတုတ္ထ သား ကား၊
ဟဂ္ဂိတ်၏သား အဒေါနိယတည်း။ ပဉ္စမသား
၅ ကား၊အဘိတလ၏သားရှေဖတိတည်း။- ဆဋ္ဌမ
သားကား၊ ဒါဝိဒ်၏မယား ဧဂလာတွင် မြင်
သော သား ဣသရံ တည်း။ ဤသူတို့ကား၊ ဟေ
ဗြုန်မြို့၌ဒါဝိဒ်မြင်သောသားတည်း။
၆ ရှောလု အမျိုးနှင့် ဒါဝိဒ် အမျိုး စစ်တိုက်ကြ
စဉ်အခါ၊အာဗနာသည်ရှောလုအမျိုးတက်မှာ
၇ ကိုယ်ကို ခိုင်မာစေ၏။- ရှောလု၌ အဲအာ၏သမီး
ရိဇပမည်သောမယားငယ်တယောက်ရှိ၏။ ဣ
ရှဗောရှက်က၊ သင်သည် ငါ့အဘ၏ မယားငယ်
ကို အဘယ်ကြောင့် သိမ်းသနည်းဟု အာဗနာ
၈ အားဆိုလျှင်၊-ထိုစကားကြောင့်အာဗနာသည်
အလွန် မိတ်ဆိုးလျက်၊ ငါသည် ယုဒအမျိုးကို
ဆိုးတား၍၊ သင့်အဘရှောလုအမျိုးနှင့် ညီအစ်
ကို အဆွေ ခင်ပွန်း တို့အား၊ ယနေ့ တိုင်အောင်
ကျေးဇူးပြုသဖြင့်သင့်ကိုဒါဝိဒ်လက်သို့မအပ်နှံ
ဘဲနေသော်၊ သင်သည်ငါ့ကို မိန်းမကြောင်းကဲ့
ရဲ့သလော၊- ထိုမိန်းမအတွက် ယနေ့အပြစ်တင်
၉ ရမည်လော။- ထာဝရဘုရားသည် နိုင်ငံတော်
၁၀ ကို ရှောလု အမျိုးမှ နှုတ်၍၊ ဒါဝိဒ် ၏ အာဏာ
တော်ကို ဒန်မြို့မှစ၍ ဗေရရှေဘ မြို့ တိုင်အောင်
ဣသရေလပြည်၊ ယုဒပြည်အရပ်ရပ်တို့၌တည်
စေခြင်းငှါ၊ ဒါဝိဒ်အားပြုမည်ဟု ကျိန်ဆိုတော်
မူသည်အတိုင်း၊ ငါထည်း၊ ဒါဝိဒ်အားမပြုဘဲနေ
လျှင်၊ထိုမှာမကဘုရားသခင်သည်အာဗနာအား
၁၁ ပြုတော်မူပါစေသောဟု ဆိုသော့ကြောင့်၊- ဣ
ရှဗောရှက်သည် ကြောက်၍ စကားတခွန်းကို
မျှမပြန်နိုင်။
၁၂ ထိုနောက်၊ အာဗနာသည် မိမိအတွက်သံတ
မန်တို့ကို ဒါဝိဒ်ထံသို့ စေလွှတ်၍ ပြည်ရှင် မင်း
ကား၊ အဘယ်သူနည်း။ ကျွန်တော်နှင့် မိဿ
ဟာယဖွဲ့တော်မူပါ။ ဣသရေလအမျိုးအပေါင်း
ကိုကိုယ်တော်ထံသို့ပြောင်းလဲစေခြင်းငှါ၊ ကျွန်
တော်သည်ကိုယ်တော်ထက်သို့ ဝင်စားပါမည်
၁၃ ဟုလျှောက်ဆို၏။- ဒါဝိဒ်ကလည်း၊ ကောင်းပြီ
သင် နှင့် ငါ မိဿဟာယဖွဲ့မည်။ သို့ရာတွင်၊ငါ
တောင်းစရာတခုရှိ၏။ငါ့မျက်နှာကိုမြင်ခွင့်တော
င်္ဂါထသောအခါ၊ရှောလုသမီးမိခါလကိုဆောင်
ခဲ့ရမည်။ သို့မဟုတ်၊ငါ့မျက်နှာကိုမမြင်ရဟုပြန်
၁၄ ဆို၏။- ဒါဝိဒ်သည်လည်း၊ သံတမန်တို့ကိုရှော
လုသား ဣရှဗောရှက်ထံသို့စေလွှတ်၍၊ငါသည်
ဖိလိတ္တိလူ အရေဖျား တရာနှင့် ဝယ်ယူသော ငါ့
မယား မိခါလကို အပ်လိုက်ရမည်ဟု မှာထိုက်
၁၅ သည်အတိုင်း၊- ဣရှဗောရှက်သည် စေလွှတ်၍
ထိုမိန်းမကိုသူ၏ထင်၊ လဲရှ၏သားဖာလတိထက်မှ
၁၆ နှုတ်ယူလေ၏။- သူ၏ လင်သည် ငိုကြွေးလျက်
သူနောက်သို့ဗာဟုရိမ်မြို့တိုင်အောင်လိုက်လေ
၏။ အာဗနာ ကလည်း၊ ပြန်သွားတော့ဟု ဆို
သော်ပြန်သွားရ၏။
၁၇ အာဗနာသည်လည်း ဣသရေလ အမျိုး အ
သက်ကြီးသူတို့နှင့်တိုင်ပင်လျက်၊ သင်တို့သည်
အထက်က၊ဒါဝိဒ်ကိုရှင်ဘုရင်အရာ၌ချီးမြှောက်
၁၈ ချင်သောစိတ်ရှိကြသည်ဖြစ်၍-ယခုချီးမြှောက်
ကြလော့။ ထာဝရဘုရားက၊ငါ့ကျွန်ဒါဝိဒ်ထက်
ဖြင့်၊ ငါ၏လူ ဣသရေလ အမျိုးကို ဖိလိတ္တိလူတို့
လက်မှ၎င်း၊ ရန်သူ အပေါင်းတို့ ထက်မှ၎င်း၊ ငါ
ကယ်နှုတ်မည်ဟု ဒါဝိဒ်အမှိမ့်တော်မူပြီဟု ဆို
၁၉ လေ၏။- တဖန် အာဗနာသည် ဗယာမိန် အမျိုး
သားတို့ကိုလည်းသွေးဆောင်လေ၏။နောက်တ
ဖန် ဣသရေလ အမျိုး အလိုရှိသမျှသော အရာ၊
ဗယာမိန် အမျိုး တညီ တညွတ် တည်း၊ အလိုရှိ
သမျှသော အရာတို့ကိုဟေဗြုန်မြို့၌ ဒါဝိဒ်အား
၂၀ ပြန် လျှောက် ခြင်းငှါသွား၍၊- လူနှစ်ကျိပ် ပါ
လျက် ဒါဝိဒ်ရှိရာ ဟေဗြုန်မြို့သို့ ရောက်သဖြင့်၊
ဒါဝိဒ်သည် ပွဲလုပ်၍ အာဗနာနှင့် သူ၏လူတို့ကို
၂၁ ကျွေး၏။- အာဗနာကလည်း၊ ဣသရေလအမျိုး
သား အပေါင်းတို့သည်၊ ကိုယ်တော်နှင့် မိဿ
ဟာယဖွဲ့စေခြင်းငှါ၎င်း၊ကိုယ်တော်သည်အလို
တော် ရှိသမျှအတိုင်း မိုးစံ စေခြင်းငှါ၎င်း၊ ကျွန်
တော်ထသွား၍ ထိုသူအပေါင်းတို့ကိုကျွန်တော်
အရှင်၊ ထျွန်တော်ရှင်ဘုရင်ထံတော်၌ စုဝေးစေ
ပါမည်ဟုလျှောက် ပြီးမှ၊ ဒါဝိဒ် လွှတ်လိုက်၍သူ
၂၂ သည် ငြိမ်ဝပ်စွာသွားလေ၏။- ထိုအခါယွာဘ
နှင့် ဒါဝိဒ်၏ကျွန် တို့သည် ရန်သူ အထုံးအရင်း
ကိုလိုက်ရာမှပြန်လာ၍၊ထက်ရဥစ္စာများကိုယူ
ခဲ့ကြ၏။အာဗနာသည်ဒါဝိဒ်နှင့်အတူဟေဗြုန်



 

ငြိမ်မရှိ။ ဒါဝိဒ်သည် ဘွတ်လိုက်၍သူသည်ငြိမ်
၂၃ ဝပ်စွာသွားနှင့်ပြီ။- ယွာဘနှင့်သူ၌ပါသောစစ်
သူရဲအပေါင်းတို့သည်ရောက်ကြသောအခါ၊ နေ
ရ၏ သားအာဗနာသည် ရှင်ဘုရင် ထံတော်သို့
လာပြီ။ ရှင်ဘုရင်သည်လည်းလွှင့်လိုက်၍၊ သူ
သည် ငြိမ်ဝပ်စွာသွား၊ ပြီဟု၊ ယွာဘအားကြား
၂၄ ပြောလျှင်၊- ယွာဘသည်ရှင်ဘုရင်ထံတော်သို့
ဝင်၍၊ ကိုယ်တော် သည် အဘယ် သို့ ပြု တော်
မူသနည်း။ အာဗနာ သည် အထံ တော် သို့ လာ
ပြီးမှ တဖန် အလွတ်သွားစေခြင်းငှါ၊ အဘယ်
၂၅ ကြောင့် ဘွတ် လိုက် တော် မူသနည်း။- နေရ၏
သားအာဗနာသည် ကိုယ်တော်ကိုလှည့်စား၍၊
ကိုယ်တော်ထွက်ဝင်တော်မူခြင်း၊ စီရင်တော်မူ
ခြင်းအလုံးစုံကိုသိမှတ်သောငှါသာလာသည်ကို
ကိုယ်တော်သိတော်မူ၏ဟုလျှောက်ပြီးလျှင်၊-
၂၆ အထံတော်က ထွက်၍ အာဗနာနောက်သို့တမန်
တို့ကိုစေလွှတ်လျှက်၊ သိရရေတွင်းမှခေါ်လေ၏။
၂၇ ထိုအမှုကိုဒါဝိဒ်မသိ။- အာဗနာသည်ဟေဗြုန်
မြို့သို့ရောက်သောအခါ၊ ယွာဘသည် အသင့်အ
တင့် ပြတ်ဆက်ခြင်းငှါ၊ မြို့တံခါးအနားသို့ခေါ်
ပြီးလျှင်၊ ညီအာသဟေလသေသည်အတွက်သူ
၏ဝမ်းကိုထိုး၍သူသည်လည်း၊ သေ၏။
၂၈ ထိုနောက် ဒါဝိဒ်သည်ကြားသောအခါ၊ နေရ
၏သားအာဗနာကိုသတ်သောအပြစ်နှင့်ငါသည်
ထာဝရ ဘုရား ရှေ့တော်၌ လွတ် ပါစေ၊ ငါနိုင်ငံ
၂၉ လွတ်ပါစေ။-ယွာဘခေါင်း၊ သူ့အဆွေအမျိုးအ
ပေါင်းတို့၏ခေါင်းပေါ်သို့ရောက်ပါစေ။ ယွာဘ
၏အဆွေအမျိုး၌ ထိနာစွဲသောသူ၊ နူနာ စွဲသော
သူ၊ ကြောကုန်းသောသူ၊ ထားဖြင့်သေသောသူ၊
ငတ်မွတ် သော သူမပြတ်စေနှင့် ဟုမြွက်ဆို၏။-
၃၀ ထိုသို့ ယွာဘနှင့် ညီအဘိရှဲသည် အာဗနာကို
သတ် ၏။ အကြောင်းမူကား၊ သူတို့ညီ အာသ
ဟေလကို ဂိဗောင်စစ်တိုက်ပွဲ၌ အာဗနာသတ်
၃၁ သတည်း။- ဒါဝိဒ်ကလည်း၊ ယွာဘနှင့် မိမိ၌ရှိ
သော သူအပေါင်းတို့ အား၊ သင်တို့အဝတ်ကို
ဆုတ်၍ လျှော်တေ အဝတ်ကို ဝတ်လျက်၊ အာ
ဗနာ အတွက် ငိုကြွေးမြည် တမ်းခြင်းကို ပြုကြ
လော့ဟု အမိန့် တော် ရှိ၍၊ ကိုယ်တော် တိုင် မ
၃၂ သာ လိုက် လေ၏။- အာ ဗနာကို ဟေဗြုန်မြို့ ၌
သင်းဂြိုဟ်ကြ၏။ သင်းချိုင်းအနားမှာရှင်ဘုရင်
သည် အသံကို ဘွင့်၍ ငိုကြွေး၏။ လူအပေါင်း
၃၃ တို့သည်လည်း ငိုကြွေးကြ၏။- ရှင် ဘုရင် သည်
အာဗနာ အတွက်မြည်တမ်းသည်ကား၊ အာဗ
၃၄ နာသည် လူမိုက် ကဲ့ သို့ သေ သလော။- သင်၏
လက် ကို မချည်၊ သံခြေချင်း မခတ်ဘဲ လူဆိုး
လက်ဖြင့် သေသကဲ့သို့ သေရှာ ပါပြီ တကားဟု
မြွက် ဆို၏။ လူ အပေါင်း တို့သည် လည်း တဖန်
၃၅ ငိုကြွေး ကြ၏။- မိုးမချုပ်မှီ ဒါဝိဒ်သည် စား
တော် ခေါ်မည် အကြောင်း၊ လူ အပေါင်း တို့
သည်ချဉ်းကပ်ကြသော်လည်း၊ ဒါဝိဒ်က နေမ
ဝင်မှီ မုန့် အစ ရှိသော စား စရာ တစုံ တခုကို ငါ
မြည်းစမ်းလျှင်၊ ထိုမျှမက ငါ၌ ဘုရားသခင်ပြု
၃၆ တော်မူစေသတည်းဟု ကျိန်ဆို၏။- ထိုအမှုကို
လူ အပေါင်းတို့သည်မှတ်၍ နှစ်သက်ကြ၏။ ပြု
တော်မူသမျှတို့ကိုလည်း၊ လူအပေါင်းတို့သည်
၃၇ နှစ်သက်ကြ၏။-ရှင်ဘုရင်သည်နေရ၏သားအာ
ဗနာကိုသတ်စေခြင်းငှါအလိုမရှိဟု၊ ထိုနေ့၌ဣ
သရေလ အမျိုးသားများနှင့် လူများ အပေါင်း
၃၈ တို့သည်သိနားလည်ကြ၏။-ရှင်ဘုရင်ကလည်း။
ဣသရေလ အမျိုး၌ မင်းသားဖြစ်သောသူ၊ ကြီး
မြတ်သောသူတပါးသည်ယနေ့ လဲကြောင်းကို
၃၉ သင်တို့ မသိသလော။- ငါသည် ဘိသိက်ခံရ၍
ရှင်ဘုရင်ဖြစ်သော်လည်း၊ ယနေ့ အားနည်း၏။
ဇေရုယာ သား ဖြစ်သော ဤသူတို့သည် ငါထက်
ခွန်၍ အားကြီးကြ၏။ မတရားသဖြင့် ပြုသော
သူကိုမိမိအပြစ်နှင့် အလျောက်၊ ထာဝရဘုရား
ဆပ်ပေးတော်မူစေသတည်းဟု မိမိကျွန်တို့အား
မိန့်တော်မူ၏။

၄

၁ အာဗနာသည်ဟေဗြုန်မြို့၌ သေကြောင်းကို
ရှောလု၏သားသည်ကြားသော်၊ အားလျော့၏။
ဣသရေလလူအပေါင်းတို့သည်ပူပန်သောစိတ်ရှိ
၂ ကြ၏။-ရှောလု၏သား၌ဗာနာနှင့်ရေခပ်အမည်
ရှိသောသူတည်းဟူသောတပ်မှူးနှစ်ယောက်ရှိ
၏။ သူ တို့ သည် ဗယ်ာ မိန် အမျိုး ဗေရောသိ အ
ရှယ် ရိမ္မုန်၏သား ဖြစ်ကြ၏။ ဗေရုတ်မြို့သည်
ဗယ်ာမိန် ခရိုင် အဝင်ဖြစ်သော်လည်း၊- ဗေရော
သိ လူတို့သည် ဂိတ္တိမ် မြို့သို့ ပြေး၍၊ ယနေ့ ထိုင်
၄ အောင်တည်းခိုလျက်နေကြသတည်း။-ရှောလု
၏ သား ယောနသန် ၌ ခြေဆွံ့ သော သား တ
ယောက်ရှိရစ်၏။ သူသည်အသက်ငါးနှစ်ရှိသော
အခါ၊ ယေဇရေလမြို့မှရှောလုနှင့်ယောနသန်တို့
၏သိတင်းကိုကြားလျှင်၊ အထိန်း သည် သူ ကို
ချီ၍ ပြေးသည်တွင်၊ အလျင် အမြန် ပြေးသော

ကြောင့်၊ ထူငယ်သည်ကျ၍ခြေချို့၏။ ထိုသူငယ်
၅ ၏အမည်ကား၊ မေဖိဗောရှက်တည်း။— ဗေရော
သိအမျိုးရိမ္မုန်၏ သား ရေခပ် နှင့်၊ ဗာနာ တို့
သည်၊ ဣရှဗောရှက်အိမ်သို့ သွား၍ နေ့တည့်
အချိန် ၌ ရောက် ၏။ ထိုအချိန် ၌ ဣရှဗောရှက်
၆ သည်အိပ်တတ်၏။— ထိုညီအစ်ကိုရေခပ်နှင့်ဗာ
နာတို့သည်ဂျုံဆန်ကိုယူချင်ယောင်ဆောင်၍၊အိမ်အ
၇ လယ်သို့ဝင်ပြီးလျှင်၊— အိပ်ခန်းထဲ၊အိပ်ရာပေါ်
မှာအိပ်လျက်နေသော ဣရှဗောရှက်၏ ဝမ်းကို
ထိုး၍ သတ်သဖြင့်၊ ဦးခေါင်းကို ဖြတ်ယူပြီးမှ၊
တညဥ့်လုံး လွင်ပြင်လမ်းဖြင့်ပြေး၍ လွတ်ကြ
၈ ၏။— ဣရှဗောရှက် ၏ ဦးခေါင်းကို ဟေဗြုန်မြို့၊
ဒါဝိဒ် ထံတော်သို့ ဆောင် ခဲ့ ၍၊ ကိုယ်တော် အ
သက်ကို ရှာသော ကိုယ်တော် ရန်သူ ရှောလု၏
သား ဣရှဗောရှက်၏ဦးခေါင်းကိုကြည့်ရှုတော်
မူပါ။ ကျွန်တော်သခင်အရှင်မင်းကြီးအဖို့ရတော်မူ
သောအပြစ်ကို၊ ထာဝရ ဘုရားသည် ရှောလု၌
၎င်း၊ သူ၏ အမျိုး အနွယ်၌ ၎င်း၊ ယနေ့ ဆပ်ပေး
တော်မူပြီဟုအထံတော်တွင်လျှောက်ဆိုသော်—
၉ ဒါဝိဒ်က၊ ငါ့အသက်ကိုဘေးဥပဒ် အပေါင်းထဲမှ
ကယ်နှုတ် တော် မူသော ထာဝရဘုရား အသက်ရှင်
၁၀ တော်မူသည်အတိုင်း၊— အရင်တခါလူတယောက်
သည်လာ၍ ဝမ်းမြောက်စရာ သိတင်းကို ပြော
မည် အကြံရှိလျက်၊ ရှောလုသေပါပြီဟု ငါ့အား
ကြားပြောသောအခါ၊ ထိုသိတင်းကိုပြောသော
ကြောင့် ဆုကိုရမည်ဟုထင်သောထိုသူကို၊ ငါက
၁၁ ဇိကလတ်မြို့၌ငါကိုင်ဆွဲ၍သတ်၏။— ထိုမျှမက၊ လူ
ဆိုးတို့သည်ဖြောင့်မတ်သောသူကိုသူ၏အိမ်အ
တွင်း၊ အိပ်ရာပေါ်မှာ သတ်လျှင်၊ သာ၍ပြုသင့်
သည်မဟုတ်လော၊ ယခုပင်သူ၏အသွေးကိုသင်
တို့၌ ငါ တောင်း၍၊ သင်တို့ကို မြေကြီး ပေါ်က
ပယ်ရှင်းသင့်သည် မဟုတ်လောဟု ဗေရောသိ
အမျိုး၊ ရိမ္မုန်၏သား ရေခပ် နှင့် ညီဗာနာ အား
၁၂ ဆိုပြီးလျှင်၊— လုလင်တို့ကို မိန့် တော်မူ၍ ထိုသူ
နှစ်ယောက်ကိုသတ်ကြ၏။ လက်ခြေတို့ကိုဖြတ်
၍ဟေဗြုန်ရေကန်အနားမှာဆွဲထားကြ၏။ ဣရှ
ဗောရှက်၏ ဦးခေါင်းကိုကား၊ ယူ၍ ဟေဗြုန်မြို့
တွင်အာဗနာသင်းချိုင်း၌သင်းဂြိုဟ်ကြ၏။

၅

၁ ထိုအခါဣသရေလအမျိုးအနွယ်အပေါင်းတို့
သည်၊ ဒါဝိဒ် ရှိရာ ဟေဗြုန် မြို့သို့ လာ၍၊ ကျွန်
တော်တို့သည် ကိုယ် တော် အရိုး၊ ကိုယ်တော်
၂ အသားဖြစ်ကြပါ၏။— အထက်ကရှောလုသည်
ကျွန်တော်တို့၌ ရှင်ဘုရင်ဖြစ်သောအခါ၌ ကိုယ်
တော်သည် ဣသရေလ အမျိုးကို ဆောင် သွား
လျက်၊ သွင်း ပြန် လျက် နေတော်မူပြီ၊ ထာဝရ
ဘုရားကလည်း၊ သင်သည်ငါ၏လူ ဣသရေလ
အမျိုးကို လုပ် ကျွေး ၍ မှူး ရ မည်ဟု၊ ကိုယ်
တော်အားမိန့်တော်မူပြီဟုလျှောက်ဆိုကြ၏။—
၃ ထိုသို့ဣသရေလအမျိုးအသက်ကြီးသူအပေါင်း
တို့သည်၊ ရှင်ဘုရင် ရှိရာ ဟေဗြုန်မြို့သို့ ရောက်
လာ လျှင်၊ ဒါဝိဒ် မင်း ကြီး သည် ဟေဗြုန်မြို့
၌ ထာဝရဘုရား ရှေ့တော် မှာ၊ သူတို့နှင့် မိတ်ဆွေ
ဖွဲ့သဖြင့်၊ သူတို့သည်ဒါဝိဒ်ကိုဘိသိတ်
ပေး၍၊ ဣသရေလ ရှင်ဘုရင်အရာ၌ ချီးမြှောက်
၄ ကြ၏။— ဒါဝိဒ်သည် နန်းထိုင်သောအခါအသက်
သုံးဆယ် ရှိ၏။ အနှစ် လေးဆယ် မင်း ပြု လေ၏။—
၅ ဟေဗြုန် မြို့၌ နေ၍ ယုဒပြည်ကို ခုနစ် နှစ် နှင့်
ခြောက် လ မင်းပြု၏။ ယေရုရှလင် မြို့ ၌ နေ ၍
ယုဒပြည်နှင့် ဣသရေလပြည် တရှောက်လုံးကို
အနှစ်သုံးဆယ်သုံးနှစ်မင်းပြု၏။
၆ တဖန် ရှင်ဘုရင် သည် မိမိ လူတို့ကို ခေါ်၍၊
ပြည်သားရင်းယေဗုသိလူတို့ရှိရာ ယေရုရှလင်
မြို့သို့ ရှီသွားလျှင်၊ သူတို့က သင်သည်ဤမြို့ထဲသို့
မဝင်ရ၊ မျက်စိကန်းသောသူနှင့် ခြေဆွံ့သောလူ
တို့က ထည်း၊ ဒါဝိဒ် သည် ဤမြို့ထဲသို့ မဝင်ရဟု
ဆိုကာမျှနှင့် သင့်ကို ထီး တား လိမ့်မည်ဟု ဆို
၇ ကြ၏။— သို့ရာတွင်၊ ဒါဝိဒ်သည်ဒါဝိဒ်မြို့တည်းဟူ
၈ သောဇိအုန်ရဲတိုက်ကိုတိုက်ယူလေ၏။— ထိုနေ့၌
ဒါဝိဒ်က၊ အကြင်သူသည် ယေဗုသိ လူတို့ ကို
တိုက်ရှုတ်ပြီးမှ ကျုံးကို လွန်၍၊ ဒါဝိဒ်သည် ဤ
နေရာသို့မဝင်ရဟုဒါဝိဒ်အသက်ကို စိန်လျှက်၊
ပြောဆိုသောမျက်စိကန်းနှင့် ခြေဆွံ့သောသူတို့
ကိုလုပ်ကြံ၏။ ထိုသူသည် ဗိုလ်ချုပ်ဖြစ်စေဟု အ
မိန့်တော်ရှိသည်အတိုင်း၊ ဇေရုယာသား ယွာဘ
သည် အဦးတက် ၍ ဗိုလ်ချုပ်အရာကို ခံရ၏။—
၉ ထိုနောက်၊ ဒါဝိဒ်သည်ရဲတိုက်၌နေ၍ ဒါဝိဒ်မြို့ဟူ
သော အမည်ဖြင့် သမုတ်လေ၏။ မိလ္လော အရပ်
ပတ်ဝန်းကျင်၌၎င်း၊ အတွင်းထက်၌၎င်းတည်ဆောက်
၁၀ လေ၏။— ဒါဝိဒ်သည်ထွန်းပွား၍အားကြီးသဖြင့်၊
ကောင်းကင်ဗိုလ်ခြေအရှင်ဘုရားသခင်ထာဝရ
ဘုရားသည်သူနှင့်အတူရှိတော်မူ၏။
၁၁ တုရု မင်းကြီး ဟိရံ သည် သံတမန် နှင့် ထင်း
ရှုးသစ်သား၊ လက်သမား၊ ပန်းရန်သမား

မှူးကို ဒါဝိဒ် ထံသို့ စေလွှတ်၍ သူတို့ သည် နန်း
၁၂ တော်ကို တည် ဆောက် ကြ၏။- ထာဝရ ဘုရား
သည်ဒါဝိဒ်ကို ဣသရေလ ရှင်ဘုရင် အရာ၌ ခန့်
ထားတော် မူကြောင်းနှင့်၊ မိမိ လူ ဣသရေလအ
မျိုး အဖို့ အလို ငှါ၊ နိုင်ငံကို ချီးမြှောက် တော် မူ
ကြောင်းကို ဒါဝိဒ်သိမြင်၏။
၁၃ ဒါဝိဒ်သည်ဟေဗြုန်မြို့မှပြောင်းသောနောက်၊
ယေရုရှလင်မြို့သူ မယားကြီး မယားငယ် တို့ကို
ထပ်၍ သိမ်းယူသဖြင့်၊ သားသမီး များတို့ကို မြင်
၁၄ လေ၏။- ယေရု ရှလင်မြို့၌ ဒါဝိဒ်မြင်သော သား
တို့အမည်ကား၊ ရှမွာ၊ ရှောဗပ်၊ နာသန်၊ ရှောလ
၁၅ မုန်၊- ဣဗဟာ၊ ဧလိရှွ၊ နေဖက်၊ ယာဖျာ၊- ဧလိရှ
၁၆ မာ၊ ဧလျာဒ၊ ဧလိဖလက်တည်း။
၁၇ ဒါဝိဒ် ကို ဘိသိတ် ပေး၍၊ ဣ သရေ လ ရှင်
ဘုရင်အရာ၌ခန့်ထားကြောင်းကိုဖိလိတ္တိ လူ တို့
သည်ကြားလျှင်၊ ထိုလူ အပေါင်းတို့သည်ဒါဝိဒ်
ကိုရှာ၍ လာကြ၏။ ထိုသိတင်းကို ဒါဝိဒ် သည်
၁၈ ကြားသောအခါရဲတိုက် သို့သွား၏။- ဖိလိတ္တိလူ
တို့သည်လာ၍ ရေဖိမ် ချိုင့်၌ အနှံ့အပြားနေကြ
၁၉ ၏။- ဒါဝိဒ်က ထည်း၊ အကျွန်ုပ် သည် ဖိလိတ္တိလူ
တို့ရှိရာသို့သွားရပါမည်လော၊ အကျွန်ုပ်လက်၌
အပ်တော်မူမည်လောဟု၊ထာဝရဘုရားကိုမေး
လျှောက်လျှင်၊ထာဝရဘုရားက သွားလော့၊ ငါ
သည် ဖိလိတ္တိလူတို့ကို သင့်လက်သို့ ဆက်ဆက်
၂၀ အပ် မည်ဟု မိန့် တော် မူသည် အတိုင်း၊- ဒါဝိဒ်
သည်ဗာလ ပေရဇိမ်မြို့သို့သွား၍ သူတို့ကိုလုပ်
ကြံပြီးမှ၊ထာဝရဘုရားအသည်ရေထ၍ပြိုဖျက်သ
ကဲ့သို့၊ ငရန်သူ တို့ကို ငါ့ရှေ့မှာ ပြိုဖျက်တော် မူပြီ
ဟုဆိုလျက်၊ ထိုအရပ်ကို ဗာလပေရဇိမ်အမည်
၂၁ မြင့်တွင်စေသတည်း။-ထိုအရပ်၌ဖိလိတ္တိလူများ
ပြစ်ထားသော ရုပ်တုများကို၊ ဒါဝိဒ်နှင့် သူ၏လူ
၂၂ တို့သည်ရှင်းရှင်းဖျက်ဆီးကြ၏။-တဖန်ဖိလိတ္တိ
လူတို့သည် လာ၍ ရေဖိမ် ချိုင့်၌ အနှံ့အပြားနေ
၂၃ ကြ၏။- ဒါဝိဒ်သည်လည်း မေးလျှောက် သော်၊
ထာဝရဘုရားက တည့်တည့် မတက်ရ၊ သူတို့
နောက်သို့ဝိုင်း၍ ပိုးစာတောတဖက်၌ရှိရမည်။-
၂၄ ပိုးစာပင်ဖျား၌ စစ်ချီသံကိုကြားသောအခါကြိုး
စားလော့၊ ထိုအခါ ထာဝရဘုရားသည် ဖိလိတ္တိ
တပ်ကိုလုပ်ကြံခြင်းငှါ သင့်ရှေ့မှာကြွသွားလိမ့်
၂၅ မည်ဟုမိန့်တော်မူသည်အတိုင်း၊-ဒါဝိဒ်သည်ပြု
၍၊ ဖိလိတ္တိ လူတို့ကို ဂေဗမြို့မှသည် ဂါဇေရမြို့
တိုင်အောင်လုပ်ကြံလေ၏။

၆

၁ တဖန် ဒါဝိဒ်သည် ရွေးချယ် သော ဣသရေလ
၂ လူသုံးသောင်းတို့ကိုစုဝေးစေပြီးလျှင်၊-ခေရုဗိမ်
ကြား မှာ ကျိန်း ဝပ် တော် မူ သော ကောင်း ကင်
ဗိုလ် ခြေ အရှင် ထာဝရ ဘုရား ၏ နာမ တော်နှင့်
ဆိုင်သောဘုရားသခင်၏သစ်တာတော်ကိုယူ ဆော
ပြည်ဗာလာမြို့မှ ဆောင်ခဲ့ခြင်းငှါ၊ မိမိ၌ပါသော
၃ သူအပေါင်းတို့နှင့်တကွထသွားလေ၏။- ဘုရား
သခင်၏သစ်တာတော်ကိုလည်း၊သစ်ပေါ်မှာတင်
၍ တောင်ပေါ်၊ အဘိနဒပ် အိမ်ထဲက ထုတ်ကြ
၏။အဘိနဒပ်၏သားဩဇနှင့် အဟိဩတို့သည်
၄ လှည်း သစ်ကို နှင်ရကြ၏။- ဩဇသည် ဘုရား
သခင် ၏ သစ်တာ တော် အနား၌ ရှင်၊ အဟိဩ
၅ သည်သစ်တာတော်ရှေ့၌ရှင်သွားကြ၏။- ဒါဝိဒ်
နှင့် ဣသရေလ အမျိုး သား အပေါင်း တို့ သည်
စောင်း၊တယော၊ပတ်သာ၊ နှဲခရာ၊ခွက်ကွင်းတို့
ကို ကိုင် လျက်၊ ထာဝရ ဘုရား ရှေ့ တော်၌ အား
၆ ထုတ်၍ တီးမှုတ်ကြ၏။- နာခုန်ကောက်နယ်တ
လင်းသို့ရောက်သောအခါ၊ နွားတို့သည်ဘုရား
သခင် ၏ သစ် တာ တော် ကို လှုပ် ရှား သော
ကြောင့်၊ ဩဇ သည် လက်ကို ဆန့်၍ သစ်တာ
၇ တော်ကိုကိုင်၏။-ထာဝရဘုရားသည်ဩဇကိုအ
မျက် ထွက် ၍၊သူ၏အပြစ်ကြောင့် ဘုရားသခင်
ဒဏ် ခတ်တော်မူသဖြင့်၊ သူသည်သစ်တာတော်
၈ နား မှာ သေ လေ ၏။- ဩဇ ကို ထာဝရ ဘုရား
ဒဏ် ခတ်တော်မူသောကြောင့်၊ဒါဝိဒ်သည်ညိုး
ငယ်သော စိတ်ရှိ၏။ ထိုအရပ်သည် ယနေ့တိုင်
အောင်ပေရဇောဇအမည်ဖြင့် တွင်သတည်း။-
၉ ထိုနေ့၌ ဒါဝိဒ်သည် ထာဝရ ဘုရားကို ကြောက်
၍၊ ထာဝရ ဘုရား ၏ သစ် တာ တော် သည် အ
ဘယ်သို့ငါ့ထံသို့ရောက်ရမည်နည်းဟုဆိုလျက်-
၁၀ မိမိ နေ ရာ ဒါဝိဒ် မြို့ထဲ သို့ သစ် တာ တော် ကို မ
ဆောင်ဘဲ၊ ဂိတ္တိလူဩဗဒေဒုံ အိမ် သို့ထမ်းသွဲ့၍
၁၁ ဆောင်သွားလေ၏။- ထာဝရဘုရား၏သစ်တာ
တော် သည် သုံး လ ပတ် လုံး ဂိတ္တိလူ ဩဗ ဒေဒုံ
အိမ်၌ရှိ၏။ထာဝရဘုရားသည်လည်း၊ဩဗဒေ
ဒုံနှင့်အိမ်သူ အိမ်သားအပေါင်းတို့ကို ကောင်း
ကြီးပေးတော်မူ၏။
၁၂ ထာဝရ ဘုရားသည် သစ်တာ တော် ကြောင့်၊
ဩဗဒေဒုံ နှင့် သူ၌ ရှိ သ မျှ ကို ကောင်း ကြီး ပေး
တော်မူကြောင်းကို၊ဒါဝိဒ်မင်းကြီးကြားသောအ
ခါ၊ တဖန်သွား၍ဘုရားသခင်၏ သစ်တာတော်

ကို ကြြမစေရုံ အိမ် မှ ဓါဝိဒ် မြို့ သို့ ဝင်းမြောက်
၁၃ သော ခြိတ်နှင့် ဆောင်ခဲ့သော်။— ထာဝရဘုရား
၏ သစ် တာ တော် ကို ထမ်း သော သူ တို့ သည်
ခြောက်လှမ်းသွားပြီးမှ၊ နွားနှင့်ဆူဖြိုးသောအ
၁၄ ကောင်တို့ကို ယဇ်ပူဇော်သော်။— ဓါဝိဒ်သည်
ထည်၊ ပိတ် သင် တိုင်း ကို ဝတ်လျက်၊ ထာဝရ
၁၅ ဘုရားရှေ့တော်၌အားထုတ်၍ကသော်၊-ထိုသို့
ဓါဝိဒ် နှင့် ဣသရေလ အ မျိုး သား အပေါင်း တို့
သည်ကြွေးကြော်လျက်၊တံပိုးမှုတ်လျက်၊ထာဝ
ရဘုရား၏ သစ် တာ တော်ကို ဆောင် ခဲ့ကြ၏။—
၁၆ ထာဝရဘုရား၏သစ်တာတော်သည်ဓါဝိဒ်မြို့ထဲ
သို့ဝင်သောအခါ၊ ရှောလု၏သမီးမိခါလသည်ပြ
တင်းပေါက်ဖြင့် ကြည့်၍၊ ဓါဝိဒ် မင်းကြီးသည်
ထာဝရ ဘုရား ရှေ့ တော် ၌ ကလျက် ခုန် လျက်
ထားသည်ကိုမြင်၍၊ စိတ် နှစ်လုံးထဲ၌ မထီမဲ့မြင်
၁၇ ပြု၏။— ထာဝရဘုရား၏ သစ်တာတော်ကိုသွင်း
၍၊ ဓါဝိဒ် ဆောက် နှင့်သော ထဲ အလယ်တွင် ထု
ခရာ၌ ထားကြပြီးမှ၊ ဓါဝိဒ်သည် မီးရှို့ရာယဇ်
နှင့် မိဿဟာယ ယဇ် တို့ကို ထာဝရ ဘုရား ရှေ့
၁၈ တော် ၌ ပူဇော်သော်။— မီးရှို့ရာယဇ် နှင့် မိဿ
ဟာ ယ ယဇ် ပူ ဇော် ခြင်း အမှု ကို ပြီး စီး စေ
သောအခါ၊ ကောင်းကင် ဗိုလ်ခြေအရှင် ထာဝရ
ဘုရား၏ နာမတော်ကိုမြွတ်၍၊ ပရိသတ် တို့ကို
၁၉ ကောင်းကြီးပေးသော်။— ဣသရေလ ပရိသတ်
ယောက်ျားမိန်းမ အပေါင်းတို့အား မုန့်တပြား၊ အ
မဲသားတတစ်၊ စပျစ်သီးဂျည်တပြားစီဝေငှပြီး
မှ၊ ထု အပေါင်း တို့သည် မိမိ တို့ နေရာ သို့ ပြန်
သွားကြ၏။
၂၀ ထိုနောက်၊ ဓါဝိဒ်သည် နန်းတော်သား တို့ကို
ကောင်းကြီး ပေးခြင်းငှါ သွား၍ ရောက်သော အ
ခါ၊ ရှောလု၏သမီး မိခါလသည် ဆီး၍ ကြိုလျက်၊
လျှပ်ပေါ်သော သူသည်အရှက်မရှိဘဲ ကိုယ်အ
ဝတ် ကို ချွတ် သကဲ့သို့၊ ယနေ့ ကျွန် ယောက်ျား
ကျွန်မိန်းမများရှေ့တွင် အဝတ်တော်ကိုချွတ်သော
ဣသရေလ ရှင် ဘုရင် သည်၊ ယနေ့ အဘယ် မျှ
လောက် ဘုန်းကြီးတော်မူပါသည်တကားဟု ဆို
၂၁ ၏။-ဓါဝိဒ်ကလည်း၊သင့်အဖ နှင့်သူ၏အဆွေအ
မျိုးအပေါင်းတို့၏ ကိုယ်စား၊ ငါ့ကို ရွေးကောက်
၍ထာဝရဘုရား၏လူ၊ ဣသရေလအမျိုးကိုအုပ်
စိုးသောမင်းအရာ၌ခန့်ထားတော်မူသောထာဝ
ရဘုရားရှေ့တော်တွင်ပြုသဖြင့် မဟုတ်သော၊ ထာ
၂၂ ဝရဘုရား ရှေ့တော် တွင် ငါကခုန်မည်။- ထိုမျှ
မက၊ ငါသာ၍ ထုတ်မာမည်။ ကိုယ်အထင် အ
ထိုင်းကိုယ်ကိုသာ၍နှိမ့်ချမည်။ သင်ပြောသော
ကျွန်မများမှုကား၊ ငါ့ကိုရိုသေ၍ ကြည်ညိုမည်ဟု
၂၃ မိခါလကိုပြန်ပြော၏။-ရှောလု၏သမီးမိခါလသည်
အသက်ထုံးသားကိုမဖွားမမြင်ရ။

၇

၁ ထာဝရဘုရား သည် အရပ်ရပ် ထိုး၌ ရှိသော
ရန်သူ အပေါင်းတို့ထက်မှ၊ ကယ်လွှတ်တော်မူ
သော ကြောင့် ရှင် ဘုရင် သည် ခံရ၍၊ နန်း
၂ တော်၌ငြိမ်ဝပ်စွာနေရသောအခါ-ပရောဖက်နာ
သန်ကိုခေါ်၍ ကြည့်ရှုလော့၊ ငါသည် အာရဇ်
သစ်သားအိမ်နှင့်နေ၏၊ ဘုရားသခင်၏သစ်တာ
တော်မူကား၊ ကုလားကာ ဖြင့် သာ ကွယ် ကာ
၃ လျက် နေရ သည်ဟု ဆိုသော်-နာသန်က၊ အကြံ
တော် ရှိ သမျှ အတိုင်း ပြု တော် မူပါ။ ထာဝရ
ဘုရားသည်ကိုယ်တော်နှင့်အတူရှိတော်မူသည်
၄ ဟုပြန်လျှောက်၏။-ထိုညဉ့်တွင်၊ထာဝရဘုရား
၏နှုတ်ကပတ်တော်သည်နာသန်သို့ရောက်၍။—
၅ ငါ့ကျွန်ဓါဝိဒ်ထံသို့သွားလော့၊ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင်သည် ငါနေစရာတို့အိမ်
၆ ကိုဆောက်ရမည်လော။-ဣသရေလအမျိုးသား
တို့ကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်သော နေ့ ထာ
၍ယနေ့ တိုင်အောင်၊ အိမ် နှင့် ငါမနေ၊ ထဲအမျိုး
၇ မျိုး နှင့် ငါ လှည့် လည်ပြီ။- ဣသရေလ အမျိုး
သားတို့ နှင့် ငါလှည့်လည်ရာအရပ်ရပ်တို့၌၊ငါ
၏လူဣသရေလအမျိုးကို ကျွေးမွေး စေခြင်းငှါ၊
ငါစေခိုင်းသောဣသရေလတရားသူကြီးတစုံတ
ယောက်အား၊ သင်တို့သည် ငါ့အဖို့ အာရဇ် သစ်
သားအိမ်ကိုအဘယ်ကြောင့်မဆောက်သနည်း။
၈ ထု ငါဆို သည်သော။- သိုးထိန်း ကောင်းကင်
ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်တော်မူသည်
ကား၊ သိုးထိန်းရာ သိုးခြံထဲကသင့်ကိုငါနှုတ်ယူ
၍၊ ငါ၏လူဣသရေလအမျိုးသားတို့ကိုအုပ်စိုး
၉ သောမင်းအရာ၌ ငါခန့်ထားပြီ။— သင်သွားလေ
ရာရာ၌ငါလိုက်၍၊ သင်၏ရန်သူအပေါင်းတို့ကို
သင့်ရှေ့မှ ပယ်ရှားသဖြင့်၊ မြေကြီးသားတို့တွင်
လူကြီး၏ ဂုဏ် အသရေ ကဲ့သို့၊ သင်၌ ကြီးစွာ
၁၀ သောဂုဏ် အသရေကို ငါပေးပြီ။– ထို့မှတပါး
ငါ၏ လူဣသရေလ အမျိုးနေရာအရပ်ကို ငါစွန်
ဆင် ပြီ။ သူတို့သည်နောက်တဖန်မပြောင်းမရွှေ့
မိမိတို့နေရာ၌နေစေခြင်းငှါ ငါစိုက်ပျိုးမည်။ မတ
၁၁ ရားသောသူတို့သည် ရှေးကာလ၌ပြုသကဲ့သို့— ငါ၏လူ

ဣသရေလ အမျိုးတွင် တရားသူကြီးတို့ကို ခန့်
ထားသောကာလ၌၎င်း၊ ညှဉ်းဆဲသကဲ့သို့နောက်
ထပ်မညှဉ်းဆဲရ၊ သင့်ကိုလည်းရန်သူအပေါင်း
ထိုထက်မှကယ်လွှတ်၍ချမ်းသာပေးပြီ။ သင်၏
အမျိုး အနွယ် ကိုလည်း ငါတည် စေမည်ဟု၊
၁၂ ထာဝရဘုရားမိန့်တော်မူပြီ။- သင်သည် အသက်
ကာလစေ့၍ ဘိုးဘေးတို့နှင့်တကွ အိပ်ပျော်သော
အခါ သင်၏ ရင်သွေး၊ သင်မှ ထွက်သော
သားကို ငါ ချီးမြှောက်၍၊ သူ၏ နိုင်ငံကို တည်
၁၃ ဆောက်မည်။- ထိုသားသည်ငါ၏နာမအဖို့အိမ်
ကိုဆောက်လိမ့်မည်၊ သူထိုင်သောရာဇပလ္လင်
၁၄ ကိုအစဉ်အမြဲငါတည်စေမည်။- ငါသည်သူ၏
အဘ ဖြစ်မည်၊ သူသည် လည်း ငါ၏ သား ဖြစ်
လိမ့်မည်။ သူသည် ဒုစရိုက် ကို ပြုလျှင် လူသုံး
တတ်သော ကြိမ်လုံးနှင့် ငါဆုံးမမည်၊ လူသား
၁၅ မှုကို တတ်သကဲ့သို့ ငါရိုက်မည်။- သို့ရာ တွင်၊
သင့်ရှေ့မှာ ငါပယ်ရှားသော ရှောလု၌ ငါ၏ကရု
ဏာကို နှုတ်သကဲ့သို့သင်၏ သား၌ ငါမနှုတ်။-
၁၆ သင်၏အမျိုးအနွယ်နှင့်၊သင်၏နိုင်ငံသည်ငရှေ့
မှာ အစဉ် အမြဲ တည် လိမ့် မည်၊ သင် ၏ ရာဇ
ပလ္လင်သည်လည်း အစဉ်အမြဲ တည်လိမ့်မည်
ဟု ငါ့ကျွန် ဒါဝိဒ်အား ပြောလော့ဟု မိန့်တော်မူ
၁၇ ၏။- ထိုဗျာဒိတ်တော် စကား အလုံးစုံ တို့ ကို နာ
သန်သည်ဒါဝိဒ်အားပြန်ပြောလေ၏။
၁၈ ထိုအခါ ဒါဝိဒ်မင်းကြီး သည် အထဲသို့ဝင်၍၊
ထာဝရဘုရား၊ရှေ့တော်၌ ထိုင် နေလျက်၊ ဘိုအ
ရှင်ထာဝရဘုရား၊ အကျွန်ုပ်ကိုဤမျှလောက်ချီး
မြှောက်တော်မူမည်အကြောင်း၊ အကျွန်ုပ်သည်
အဘယ်သို့သောသူဖြစ်ပါသနည်း။ အကျွန်ုပ်အ
မျိုးသည်အဘယ်သို့သောအမျိုးဖြစ်ပါသနည်း။-
၁၉ သို့ရာတွင်၊ဘိုအရှင်ထာဝရဘုရား၊ ထိုကျေးဇူး
တော်ကို သာမည ကျေးဇူးဟု ထင် မှတ် တော်မူ
သေး၍ကြောင့်၊ကိုယ်တော်ကျွန်၏အမျိုးအနွယ်
ကိုကြာမြင့်စွာသော ကာလနှင့် ရှည်လျက်မိန့်
တော်မူပါသည်တကား။ ဘိုအရှင်ထာဝရဘုရား၊
၂၀ လူတို့သည်ထိုသို့စီရင်လေ့ရှိပါသလော။-ဒါဝိဒ်
သည်အဘယ်သို့တိုးတက်၍လျှောက်ရပါမည်
နည်း။ ဘိုအရှင်ထာဝရဘုရား၊ ကိုယ်တော်သည်
၂၁ ကိုယ်တော်၏ကျွန်ကိုသိတော်မူ၏။- နှုတ်ကပတ်
တော်ကိုထောက်၍၊ အလိုတော်ရှိသည်အတိုင်း
ကိုယ်တော်၏ကျွန်သိရမည်အကြောင်း၊ ဤကြီး
၂၂ စွာသော အမှု အလုံး စုံတို့ကို ပြုတော်မူပြီ။- သို့
ဖြစ်၍၊ ဘိုထာဝရအရှင်ဘုရား၊ သခင်၊ ကိုယ်
တော်သည်ကြီးမြတ်တော်မူ၏။ အကျွန်ုပ်တို့ကြား
သမျှအတိုင်း၊ ကိုယ်တော် နှင့်တူ သော ဘုရား
ကိုယ်တော်မှတပါး အခြားသော ဘုရားမည်မျှ
၂၃ မရှိပါ။- နာမ တော်ကို ထင် ရှား စေ၍၊ အံ့ဩဖွယ်
ပြည်အစရှိသောအခြားသောပြည်ရှား၊ ဘုရား
ဘုရား ရှား တို့မှ ရွေးနှုတ်တော်မူသော ကိုယ်
တော်၏လူမျိုးရှေ့တွင်၊လူမျိုးတော်အဖို့နှင့်ပြည်
တော်အဖို့ ကြောက်မက်ဖွယ်သော အမှုကြီးတို့
ကိုပြုခြင်းငှါ၊ဘုရားသခင်ကြွ၍ကိုယ်တော်အဖို့
ရွေးနှုတ်တော်မူသောကိုယ်တော်၏လူဣသရေ
လအမျိုးနှင့်တူသောလူမျိုးတစုံတမျိုးသည်မြေ
၂၄ ကြီးပေါ်မှာရှိပါသလော။- အကြောင်းမူကား၊
ကိုယ်တော်၏လူဣသရေလအမျိုးကိုအစဉ်အမြဲ
ကိုယ်တော်၏လူဖြစ်စေခြင်းငှါ၊ သူတို့ကို ကိုယ်
တော် အဖို့ခိုင်ခံ့ မြဲမြံစေ၍၊ ကိုယ်တော်ထာဝရ
ဘုရားသည်သူတို့၏ဘုရားသခင်ဖြစ်တော်မူ၏။
၂၅ ယခုမှာ ဘိုထာဝရ အရှင် ဘုရားသခင်၊ ကိုယ်
တော် ကျွန်၌၎င်း၊ ကိုယ်တော် ကျွန်၏ အမျိုးအ
နွယ်၌၎င်း၊ မိန့်တော်မူသော စကားတော်ကိုအ
စဉ်အမြဲ တည်စေတော်မူပါ။ မိန့်တော်မူသည်
၂၆ အတိုင်းပြုတော်မူပါ။- ကောင်းကင်ဗိုလ်ခြေအ
ရှင်ထာဝရဘုရားသည်ဣသရေလအမျိုးကိုအ
စိုးရသောဘုရားသခင် ဖြစ်တော်မူသည် ဟူ၍၊
နာမတော်သည် အစဉ် အမြဲ ချီးမြှောက်ခြင်းရှိ
ပါစေသော။ ကိုယ် တော် ကျွန် ဒါဝိဒ် ၏ အမျိုး
၂၇ အနွယ်သည်ရှေ့တော်၌တည်ပါစေသော။- အ
ကြောင်းမူကား၊ ဣသရေလအမျိုး၏ ဘုရားသ
ခင်၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရား၊
ကိုယ်တော်က၊သင်၏အမျိုးအနွယ်ကိုငါတည်
စေမည်ဟု၊ ကိုယ် တော်ကျွန် အား ဗျာဒိတ်ပေး
တော်မူသော့ကြောင့်၊ ကိုယ်တော်ကျွန်သည်ဤ
ပဌနာကို ရှေ့ တော်၌ ပြုချင် သော စိတ်ရှိ ပါ၏။-
၂၈ ယခုလည်း၊ဘိုအရှင်ထာဝရဘုရား၊ကိုယ်တော်
သည် ဘုရား သခင် မှန်တော်မူ၏။ စကားတော်
တည်း၊မှန်ပါ၏။ ဤကျေးဇူးကိုကိုယ်တော်ကျွန်
၂၉ ၌ဂတိထား တော် မူပြီ။- သို့ဖြစ်၍၊ ကိုယ် တော်
ကျွန်၏ အမျိုးအနွယ်သည်ရှေ့တော်၌ အစဉ်
အမြဲတည်ပါမည်အကြောင်း၊ ကောင်းကြီးပေး
ခြင်းငှါနှုးညွတ်သောစိတ်ရှိတော်မူပါ။ ဘိုအရှင်
ထာဝရ ဘုရား၊ အမိန့် တော်ရှိသည် အတိုင်း၊
ကောင်းကြီးပေးတော်မူသော မင်္ဂလာအားဖြင့် ကိုယ်

တော်ကျွန်၏အမျိုးအနွယ်သည် အစဉ်အမြဲခံ
ရပါစေသောဟု ဆုတောင်းသတည်း။

၈

၁ ထိုနောက်၊ ဒါဝိဒ်သည် ဖိလိတ္တိလူတို့ကို လုပ်
ကြံ၍အောင်မြင်သဖြင့်၊ မေသေဂမ္မာမြို့ကိုသိမ်း
၂ ယူလေ၏။- မောဘပြည်ကို ထည်း လုပ်ကြံ၍၊
ပြည်သားတို့ကိုမြေပေါ်မှာလှဲချသဖြင့်၊ ကြိုးနှင့်
တိုင်းထွာတ် သုံးစုတွင်နှစ်စုကိုသတ်၏၊ တစုကို
ရှင်စေ၍ ထားလေ၏၊ ထိုသို့ မောဘ အမျိုး သားတို့
၃ သည်ဒါဝိဒ်၌ကျွန်ခံ၍ အခွန်ဆက်ရကြ၏။ ဇောဘ
အမင်းကြီးရဟောဘ၏သား၊ ဟာဒဒေဇာသည်
ဥဖရတ် မြစ်နား၌ မြေကို သိမ်းယူခြင်းငှါ သွား
၄ သောအခါ၊ ဒါဝိဒ်သည်တိုက်ဖျက်၍-ရထားစီး
ထောင်၊ မြင်းစီးသူရဲခုနစ်ထောင်၊ ခြေသည်သူရဲ
နှစ်သောင်းကိုဖမ်းဆီး၍ ရထားတရာကိုသိမ်း
ထားပြီးမှ၊ အခြားသော မြင်းရထား ရှိသမျှတို့
၅ ကို ဖျက်ဆီးလေ၏။- ဒမာသက်မြို့နေ ရှုရိလူတို့
သည် ဇောဘ မင်းကြီး ဟာဒဒေဇာ ကို စစ်ကူ
သောအခါ၊ ဒါဝိဒ် သည် ရှုရိလူ နှစ်သောင်း နှစ်
၆ ထောင်တို့ကိုသတ် ပြီးမှ၊-ရှုရိပြည်ဒမာသက်မြို့
၌ မြို့စောင့်တပ်ကို ထားသဖြင့်၊ ရှုရိလူတို့သည်
ဒါဝိဒ်၌ ကျွန်ခံ၍ အခွန် ဆက်ရ ကြ၏။- ဒါဝိဒ်
သွားလေရာရာ၌ ထာဝရဘုရားစောင့်မတော်မူ
၇ ၏။- ဟာဒဒေဇာ၏ ကျွန်တို့ စွဲကိုင်သော ရွှေဒိုင်း
လွှားများကို ဒါဝိဒ်သည်သိမ်း၍ ယေရုရှလင်မြို့
၈ သို့ဆောင်သွား၏။- ဟာဒဒေဇာ အစိုးရသော
ဗေတမြို့နှင့်၊ ဗေရောသဲမြို့မှဒါဝိဒ်မင်းကြီးသည်
များစွာသောကြေးဝါကိုသိမ်းသွား၏။
၉ ဟာဒဒေဇာ၏ တပ် အလုံးအရင်း ကို ဒါဝိဒ်
လုပ်ကြံကြောင်းကို၊ ဟာမတ်မင်းကြီး တောဣ
၁၀ သည်ကြားလျှင်- မိမိရန်သူ ဟာဒဒေဇာကို ဒါ
ဝိဒ်သည်စစ်တိုက်၍လုပ်ကြံသောကြောင့်၊ မိသာ
ထာသဖွဲ့၍ ကောင်း ကြီး ပေး စေ ခြင်း ငှါ၊ မိမိ
သားယောရံကိုဒါဝိဒ်မင်းကြီးထံသို့ စေလွှတ်၍၊
ယောရံ သည် ငွေဖလား၊ ရွှေဖလား၊ ကြေးဝါ
၁၁ ဖလားတို့ကို ဆောင်လျက်လာ၏။- ထိုဖလားတို့
ကိုဒါဝိဒ် မင်းကြီး သည် ထာဝရ ဘုရားအားပူ
ဇော်၏။ ထိုအတူ၊ အောင် မြင် သော ရှုရိပြည်၊
မောဘပြည်၊ အမ္မုန်ပြည်၊ ဖိလိတ္တိပြည်၊ အာမ
၁၂ လက်ပြည်၌သိမ်းယူသောရွှေငွေကိုင်၄-ဇောဘ
မင်းကြီး ရဟောဘသားဟာဒဒေဇာ၏ ထံမှာ
ကိုလုယူ၍ ရသောရွှေငွေကိုင်၄၊ ထာဝရ ဘုရား
၁၃ အားပူဇော်၏။-ဆားချိုင့်ထဲမှာစုံထုစ်အသောင်း
ရှစ်ထောင်တို့ကို လုပ်ကြံ ရာမှ၊ ဒါဝိဒ်သည်ပြန်
၁၄ လာသောအခါ ဂုဏ် အသရေကြီး၏။- ဧဒုံပြည်
အရပ်ရပ်၌ မြို့စောင့်တပ်တို့ကိုထား၍၊ ဧဒုံပြည်
သား အပေါင်း တို့သည် ဒါဝိဒ် ၌ ကျွန် ခံ ကြ၏။
ဒါဝိဒ် သွားလေ ရာရာ၌ ထာဝရဘုရား စောင့်မ
တော်မူ၏။
၁၅ ထိုသို့ဒါဝိဒ်သည် ဣသရေလနိုင်ငံလုံးကိုစိုးစံ
၍၊ နိုင်ငံတော်သားတို့တွင်တရားမှုကိုစီရင်ဆုံး
၁၆ ဖြတ်တော်မူ၏။- ဇေရုယာ၏သား၊ ယွာဘသည်
ဗိုလ်ချုပ် မင်း ဖြစ်၏၊ အဟိလုဒ်၏သား ယောရှ
၁၇ ဖတ်သည် အတွင်းဝန်ဖြစ်၏။- အဟိတုဗ်သား
ဇာဒုတ် နှင့် အဗျာသာ၏ သား အဟိမလက်
သည် ယဇ်ပုရောဟိတ်ဖြစ်၏၊ စရာယသည်စာ
၁၈ ရေး တော်ကြီး ဖြစ်၏။- ယောယဒ၏သားဗေနာ
ယသည်ခေရသိလူနှင့်ပေလသိလူတို့ကို အုပ်ရ
၏၊ ဒါဝိဒ်၏သားတော်တို့သည်လည်း မင်းအသား
အရာနှင့်နေကြ၏။

၉

၁ တနေ့ဒါဝိဒ်က၊ ငါသည်ယောနသန်အတွက်
ကျေးဇူး ပြုစရာ အခွင့် ရှိစေခြင်းငှါ၊ ရှောလုအ
ဆွေအမျိုး တစုံ တယောက် ကျန်ကြွင်း သေးသ
၂ လောဟု မေးသော်၊- ဇိဘ အမည်ရှိသော၊ ရှော
လု၏အဆွေအမျိုးနှင့်ဆိုင်သောကျွန်တယောက်
ကိုအထံတော်သို့သွင်း၍ ရှင်ဘုရင်က၊ သင်သည်
ဇိဘမှန် သလောဟု မေးလျှင်၊ ကိုယ်တော်ကျွန်
၃ မှန်ပါသည်ဟု ပြန်လျှောက်လေ၏။- ရှင်ဘုရင်
ကလည်း၊ ဘုရားသခင် အလို တော် အတိုင်း ငါ
ကျေး ဇူး ပြု စရာ အ ခွင့် ရှိ စေ ခြင်း ငှါ၊ ရှောလု
အဆွေအမျိုး ဟုတ်တယောက် မျှ မရှိသလောဟု
မေးလျှင်ဇိဘက၊ ယောနသန်၌ခြေဆွံ့သောသား
၄ တယောက် ရှိပါ သေး၏ဟု လျှောက်သော်-ရှင်
ဘုရင်က၊သူသည်အဘယ်မှာရှိသနည်းဟုမေး
မြန်လျှင်၊ ဇိဘကလောဒေဗာရွာ၊ အမျေလသား
၅ မာခိရအိမ်၌ရှိပါသည်ဟုလျှောက်၏။-ထိုအခါ
ဒါဝိဒ်သည်စေလွှတ်၍ ရှောလု၏သား ဖြစ်သော
ယောနသန်၏သားမေဖိဗောရှတ်ကိုလောဒေဗာ
၆ ရွာ၊ အမျေလသား မာခိရ အိမ်မှခေါ်ခဲ့၍- သူ
သည် အထံတော်သို့ ရောက်သောအခါပြပ်ဝပ်
လျက် ရှိခိုး လေ၏၊ ဒါဝိဒ် ကလည်း၊ မေဖိဗော
ရှတ်ဟုခေါ်လျှင် ကိုယ်တော်ကျွန် ရှိပါသည်ဟု
၇ လျှောက်လေ၏။- ဒါဝိဒ်ကလည်း မစိုးရိမ်နှင့်။

သခင်၏ အစေအပါးသားနှင့် အတွက် ငါသည် သင်၌ ဆက်ဆက် ကျေးဇူးပြုမည်၊ သင့်အဘိုးရှောလု ပိုင်ထမ်းသောမြေကိုငါပြန်ပေးမည်။ သင်သည် နေ့တိုင်း အစဉ်ငါ့စားပွဲ၌စားရမည်ဟု ဆိုသော်-
၈ မေဖိဗောရှက်က၊ ကျွန်တော် ကဲ့သို့ ဖြစ်ရသော သေသောခွေးကို ကိုယ်တော်ကြည့်ရှုရမည်အကြောင်း၊ ကိုယ်တော် ကျွန် သည် အဘယ် သို့ သောသူ ဖြစ်ပါသနည်းဟု ဦးချ၍ ပြန်လျှောက်
၉ ၏။- ထိုအခါ ရှင်ဘုရင်သည် ရှောလု၏ ကျွန်ဇိဗကို ခေါ်၍၊ ရှောလုနှင့်သူ၏ တဆွေ အမျိုးများ ပိုင်ထိုက်သမျှတို့ကို သင့်သခင်၏ သားအား ငါပေး
၁၀ ပြီ၊- သင်သည် သင်၏ သား၊ ကျွန် တို့နှင့် တကွ လယ်လုပ်၍၊ သင့်သခင်၏ သား စားစရာဘို့ အသီးအနှံကိုသွင်းရမည်၊ သို့ရာတွင် သင့်သခင်၏ သားမေဖိဗောရှက်သည် နေ့တိုင်းအစဉ်ငါ့စား ပွဲ၌ အစာ စား ရ မည် ဟု မိန့်တော် မူ၏၊ ဇိဗ၌ သားတဆယ် ငါးယောက်နှင့် ကျွန် နှစ်ဆယ် ရှိ
၁၁ ၏၊- ဇိဗကလည်း၊ ကျွန်တော်သခင် အရှင်မင်း ကြီးသည် ကိုယ်တော်ကျွန်ကို မှာထား တော်မူ သမျှအတိုင်း၊ ကိုယ်တော်ကျွန် ပြုပါမည်ဟု နား တော်လျှောက်လေ၏။ ထိုနောက်၊ မေဖိဗောရှက် သည်ရှင်ဘုရင်၏ သားရင်းကဲ့သို့ စားပွဲတော်၌
၁၂ အစာ စားရ၏၊- မေဖိဗောရှက်၌ မိက္ခာ အမည် ရှိသော သား ငယ် တယောက်ရှိ၏၊ ဇိဗအိမ်၌ နေသောသူ အပေါင်းတို့သည်လည်း၊ မေဖိဗော
၁၃ ရှက်၏ ကျွန် ဖြစ် ကြ ၏၊- ထို သို့ မေဖိဗောရှက် သည် ယေရုရှလင် မြို့၌ နေ၍၊ ရှင် ဘုရင်၏ စား ပွဲတော်၌ နေ့တိုင်း အစဉ်စားရ၏၊ ခြေနှစ်ဖက်ဆွံ့ သောသူဖြစ်၏။

၁၀

၁ ထိုနောက်၊ အမ္မုန်ရှင်ဘုရင်သည်သေ၍ သား တော်ဟာနုန်သည် ခမည်းတော်အရာ၌နန်းထိုင်
၂ ၏၊- ဒါဝိဒ်ကလည်း၊ ဟာနုန်အဘ နာဟတ်သည် ငါ့အား ကျေးဇူးပြုသောကြောင့်၊ သူ၏သား၌ ငါ ကျေးဇူး ပြုမည်ဟု ဆိုလျက်၊ သူ၏အဘ သေရာ တွင်နှစ်သိမ့်စေ ခြင်းငှါ ကျွန်တို့ကို စေလွှတ်၍၊
၃ ဒါဝိဒ်၏ကျွန်တို့သည် အမ္မုန်ပြည်သို့ရောက်ကြ ၏၊- အမ္မုန်အမျိုး မှူးမတ်တို့သည် မိမိတို့ အရှင် ဟာနုန် ထံ၌ဝင်၍၊ ဒါဝိဒ် သည် မိတ်တော်ကို နှစ်သိမ့်စေသောလုလင်တို့ကို စေလွှတ်ရာတွင် ခမည်း တော်ကိုရိုသေ၍ ပြုသည်ဟု ထင်မှတ်တော်မူ သလော၊ မြို့ကိုစစ်ဆေး၍ မြေ၍ ဖျက်ဆီး ခြင်းငှါ သာ လူ၏ ကျွန် တို့ကို စေလွှတ် သည်မ
၄ ဟုတ်သလောဟုလျှောက်ကြသော်- ဟာနုန်သည် ဒါဝိဒ်၏ ကျွန်တို့ကို ယူပြီးလျှင်၊ မုတ်ဆိတ်တခြမ်း ကို ရိတ်၍ အဝတ်ကို တင်ပါးတိုင်အောင် ဖြတ်
၅ ပြီးမှ လွှတ်လိုက် လေ၏။- ထိုသိတင်းကို ဒါဝိဒ် သည် ကြားသော အခါ၊ ထိုလု တို့သည် အလွန် ရှက်သောကြောင့်သူတို့ကိုဆီးကြိုစေခြင်းငှါ စေ လွှတ်၍၊ သင်တို့ သည် မုတ်ဆိတ် မ ရှည် မှီ တိုင် အောင် ယေရိခေါမြို့မှာ နေကြလော့၊ ထိုနောက် မှပြန်လာကြလော့ဟု မှာထားတော်မူ၏။
၆ အမ္မုန်အမျိုးသားတို့က၊ ငါတို့သည် ဒါဝိဒ်ရှေ့ မှာစက်ဆုပ်ရွံရှာဖွယ်ဖြစ်လိမ့်မည်ဟု သိလျှင်၊ လူတို့ကိုစေလွှတ်၍ ဗက်ရဟောဘမြို့နှင့်ဇောဘ မြို့၌နေသော ရှုရိလူခြေသည်သူ နှစ်သောင်း၊ မာ ခ မင်းကြီး၏ လူ တထောင်၊ တောဘမြို့သား တ
၇ သောင်းနှစ်ထောင်တို့ကို ငှါးကြ၏၊- ထိုသိတင်း ကို ဒါဝိဒ်သည်ကြားလျှင် ယွာဘနှင့်ခွန်အားကြီး သော သူရဲ အလုံး အရင်း အပေါင်းကို စေလွှတ်
၈ ၏၊- အမ္မုန်အမျိုးသားတို့သည် ထွက်၍ မြို့တံခါး ဝမှာ စစ်ခင်းကျင်းကြ၏၊ ဇောဘမြို့၊ ရဟောဘ မြို့၊ တောဘမြို့မှ လာသော ရှုရိလူ နှင့် မာခါ မင်း ကြီး၏လူတို့သည် လွင်ပြင်၌ တခြားစီနေကြ၏။-
၉ ယွာဘ သည် ထည်း၊ ရှေ့၌ ၎င် နောက်၌ ၎င် စစ် ရှုက် နှာ နှစ်ဖက် ရှိသည်ကို မြင်လျှင်၊ ဣသရေ လလူတို့တွင် ထန်မြန်သော သူရဲ သမျှ တို့ကို ရွေး ကောက်၍၊ ရှုရိလူတို့တဖက်၌ စစ်ခင်းကျင်း၏-
၁၀ ကြွင်း သော သူတို့ကို အမ္မုန် အမျိုးသားတို့ ထ ဖက်၌စစ်ခင်းကျင်းစေခြင်းငှါ ညီအဘိရှဲ ထက်
၁၁ သို့ အပ်လျက်- ရှုရိ လူတို့ သည် ငါ့ကို နိုင်လျှင် ငါ့ အားကူရမည်၊ အမ္မုန်အမျိုးသားတို့ သည်သင့်
၁၂ ကို နိုင်လျှင် သင့် အား ငါ ကူမည်၊- ရဲရင့်သော စိတ်ရှိ၍ ငါတို့လူမျိုး၊ ငါတို့ဘုရားသခင် မြို့ရွာတို့ အဘို့ အား ထုတ်၍ တိုက် ကြ ကုန် ဆို့၊ ထာဝရ ဘုရား သည် အလို တော် ရှိသည် အတိုင်း စီရင်
၁၃ တော်မူစေသတည်းဟု ဆိုပြီးမှ သူ၌ပါသောလူ များနှင့်တကွ ရှုရိလူတို့ကို စစ်တိုက်ခြင်းငှါချဉ်း သွားသောအခါ၊ ရှုရိလူတို့ သည်ပြေးကြ၏။- ရှုရိ
၁၄ လူတို့ပြေးသည်ကိုအမ္မုန် အမျိုးသားတို့ သည်မြင် လျှင်၊ သူတို့သည်လည်း အဘိရှဲရှေ့မှာပြေး၍ မြို့ ထဲသို့ဝင်ကြ၏၊ ယွာဘသည်လည်း၊ အမ္မုန်ပြည် မှထွက်၍ ယေရုရှလင်မြို့သို့ပြန်သွားလေ၏။
၁၅ ရှုရိလူတို့သည် ဣသရေလအမျိုးသားရှေ့မှာ

ရှင်ဘုရင်ထံတော်၌စစ်ထိုးသင်းကိုအကုန်အစင်
၂၀ ကြားလျှောက်ပြီးလျှင်-ရှင်ဘုရင်သည်အမျက်
ထော်ထွက်၍ သင်တို့သည် စစ်ပြိုင်သော အခါး
မြို့အနီးသို့ အဘယ်ကြောင့် ချဉ်းကပ်ကြသ
၂၁ နည်း။မြို့ရိုးပေါ်ကပြစ်မည်ကိုမသိကြသလော-ယေ
ရုဗ္ဗေရှက်သား အဘိမလက်ကို အဘယ်သူလုပ်
ကြသနည်း။သေဗက်မြို့မှာမိန်းမတယောက်သည်
ကြိတ်ဆုံကျောက် တခဲကို မြို့ရိုးပေါ်က ပြစ်ချ၍
အထိမခံသောသည်မဟုတ်လော။မြို့ရိုးအနီး
သို့အဘယ်ကြောင့်ချဉ်းကပ်ကြသနည်းဟုမိန့်
တော်မူလျှင်၊ ကိုယ်တော်၏ကျွန်၊ ဟိတ္တိလူ၊ ဥရိ
ယသေကြောင်းကို လျှောက်ရမည်ဟု မှာထား
၂၂ ၍ စေလွှတ်လေ၏။- ယွာထ မှာ ထား သည် အ
တိုင်း ထိုတမန် သည် သွား၍ ဒါဝိဒ်အား ကြား
၂၃ လျှောက်သည်ကား။- ရန်သူတို့သည် အမှန်စင်
စစ် ကျွန်တော် တို့ကို နိုင်သဖြင့်၊ လွင်ပြင် တိုင်
အောင် ထိုက်၍ ထိုက် ကြ ပါ၏။ ကျွန် တော် တို့
သည်လည်း မြို့တံခါးဝတိုင်အောင် တွန်း၍ ထိုက်
၂၄ ကြပါ၏။- လေး သမား တို့သည် မြို့ရိုး ပေါ်က၊
ကိုယ်တော်ကျွန်တို့ကိုပြစ်၍ ကိုယ်တော်ကျွန်အ
ချို့သေကြပါ၏၊ ကိုယ်တော်ကျွန်၊ ဟိတ္တိလူ၊ဥရိ
၂၅ ယ သည် သည်း သေပါ၏ ဟုလျှောက် လျှင်-ဒါ
ဝိဒ်ကလည်း၊၊ဤအမှုကြောင့်စိတ်မပျက်နှင့်၊ စစ်
ထိုးတိုက် ပွဲတွင် တယောက် တလှည့် သေတတ်၏။
အားယူ၍မြို့ကို ကြပ်တည်းစွာ တိုက်လျက်လုပ်
ကြဖြိုဖျက်ကြလော့ဟု၊ တမန်အားဖြင့် ယွာ
၂၆ ထကိုမှာထိုက်လေ၏။- ဥရိယသေကြောင်းကို
သူ၏မယားကြားသောအခါ၊ ခင်ပွန်းကြောင့်ငို
၂၇ ကြွေးမြည်တမ်းလျက်နေ၏။-ငိုကြွေးမြည်တမ်း
ခြင်းကွန်မှ၊ ဒါဝိဒ်သည်လူကိုစေလွှတ်၍ထိုမိန်းမကို
နန်းတော် သို့ ခေါ်စေ သဖြင့်၊ သူ သည် မိဖုရား
အဖြစ်သို့ ရောက်၍ သားယောက်ျားကိုဖွားမြင်
လေ၏။ သို့ရာ တွင်၊ ဒါဝိဒ် ပြုသော အမှု သည်
ထာဝရဘုရား ရှေ့တော်၌ ဆိုးသော အမှုဖြစ်သ
တည်း။

၁၂

၁ နောက်တဖန်ထာဝရဘုရားသည်ပရောဖက်
နာသန်ကို ဒါဝိဒ်ထံသို့ စေလွှတ်တော်မူသဖြင့်၊
နာသန်သည်ဝင်၍အရှင်မင်းကြီး၊ဤမြည်သော
မြို့တွင်သူဌေးတဦး၊ ဆင်းရဲသားတဦးရှိပါ၏။-
၂ သဌေးသည် အလွန် များစွာ သော သိုး နွားမှစ
၃ သည်တို့နှင့်ကြွယ်ဝပြည့်စုံပါ၏-ဆင်းရဲသား
မှုကား၊ မိမိဝယ်၍ ကွေးစားသော သိုးမကလေး
တကောင် တည်းမှ တပါး၊ အခြားသော ဥစ္စာမရှိ
ပါ၊ ထိုသိုးမကလေးသည်အရှင်နှင့်ငယ်၊ အရှင်၏
သားသမီးတို့နှင့်ငယ်ပေါင်း၍ကြီးပွား၏၊ အရှင်၏
အစာကိုစားတတ်၏၊အရှင်၏ရေခွက်၌သောက်
တတ်၏၊ အရှင်၏ ရင် ခွင်၌ အိပ်၍ သမီးကဲ့သို့ဖြစ်
၄ ၏။- ထင်ရွေ့အိမ်သို့ ဧည့်သည် တဦးရောက်၍၊
သဌေးသည် ဧည့်သည်ကို ထုပ်ကျွေးဘို့၊ မိမိသိုး
နွားများကို နှမြောသောကြောင့် မယူ၊ ဆင်းရဲ
သား၏သိုးမကလေးကိုယူ၍ ဧည့်သည်ကိုထုပ်
ကျွေးဘို့ ချက် ပါသည်ဟု လျှောက် လေ သော်-
၅ ဒါဝိဒ်သည် ထိုသဌေးကို ပြင်းစွာ အမျက်ထွက်
၍၊ ထာဝရ ဘုရား အသက် ရှင်တော် မူသည်အ
တိုင်း၊ ထိုသို့ပြုသောသူသည်အမှန်သေရမည်။-
၆ ကရုဏာစိတ်မရှိဘဲ ထိုအမှုကိုပြုသောကြောင့်၊
ထို သိုးမ က လေး အတွက် လေး ဆ ပြန် ပေးရ
၇ မည်ဟု မိန့်တော်မူ၏။- နာသန်ကလည်း၊ ထိုသူ
သည်ကား၊ အခြား သူမဟုတ်၊ ကိုယ်တော်ပင်
ဖြစ်ပါ၏၊ ဣသရေလ အမျိုး၏ ဘုရားသခင်ထာ
ဝရ ဘုရား၊ မိန့် တော် မူသည် ကား၊ ငါ သည်
ဘိသိတ်ပေး၍၊ သင့်ကို ဣသရေလ ရှင်ဘုရင်
အရာ၌ခန့်ထားပြီး၊ ရှောလုလက်မှလည်း ကယ်
၈ ထုတ်ပြီး-သင့်သခင်၏အဆွေအမျိုးကိုငှင်၊သင့်
သခင်၏မယားဆိုက်ငှင်၊ သင်၏ရင်ခွင်၌ငါအပ်
ပေးပြီ၊ ဣသရေလ အမျိုး နှင့် ယုဒအမျိုးကို ငါ
ပေးပြီ၊ ထိုအရာများ မလောက် လျှင် အခြားတ
ပါးသော အရာရာတို့ကို ပေးခြင်းငှါ ငါအလိုရှိ
၉ ၏။- သင်သည် ထာဝရ ဘုရား၏ ပညတ်တရား
တော်ကိုမထိမဲ့မြင်ပြု၍၊ ရှေ့တော်၌ဒုစရိုက်ကို
အဘယ်ကြောင့် ပြုဘိသနည်း၊ ဟိတ္တိလူ၊ဥရိယ
၏အသက်ကို ထားဖြင့်သတ်၍၊ သူ၏မယားကို
သိမ်းလေပြီတကား၊ထိုသူကိုအမ္မုန်အမျိုးသား
၁၀ ထားနှင့်သတ်လေပြီတကား။-ယခုမှာဘ်သည်
ငါကိုမထိမဲ့မြင်ပြု၍ဟိတ္တိလူ၊ဥရိယ၏မယားကို
သိမ်းသောကြောင့်၊ သင့်အဆွေအမျိုးတို့သည်
ထား ဘေးနှင့် အစဉ် တွေ့ကြုံ ရကြလိမ့်မည်။-
၁၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊သင်၌ရန်
ထက် ပြုသော သူကို သင်၏ အဆွေ အမျိုး ထဲက
ထဲကငါပေါ်စေမည်၊ သင့်မျက်မှောက်တွင်၊ သင်
၏မယားတို့ကို ငါယူ၍ သင့် အိမ်နီးချင်း၌ အပ်
သဖြင့်၊ သူသည် နေ့ရှေ့မှာ သင်၏ မယားတို့နှင့်
၁၂ ပေါင်း ဖော်လိမ့်မည်။- သင်အည် ဤအမှုကိုမ

ထင်ရှားပြုသော်ထည်း၊ နေရွှေမှာငါဖွန်ပြမည်
ထု၊ ထာဝရဘုရား မိန့်တော်မူသော စကားကို
၁၄ ပြန်ကြားလေ၏။- ဒါဝိဒ်ကထည်း၊ ငါသည်ထာ
ဝရဘုရားကိုပြစ်မှားပါပြီဟုနာသန် အား ဝန်ခံ
၍နာသန်က၊ အသက်တော်ကိုချမ်းသာစေခြင်း
ငှါ၊ ထာဝရဘုရား သည် ကိုယ် တော် အပြစ်ကို
၁၅ ပယ် တော် မူပြီ။- သို့သော်ထည်း၊ ကိုယ်တော်
သည်ထိုသို့ ပြစ်မှားသောအားဖြင့်၊ ကဲ့ရဲ့စရာအ
ခွင့်ကြီးကိုထာဝရဘုရား၏ ရန်သူတို့အား ပေး
သောကြောင့်၊ ယခုမြင်သောသားသည် ဆက်
ဆက်သေရမည်ဟု၊ ဒါဝိဒ်အား လျှောက်ဆိုပြီး
၁၆ လျှင်-နန်းတော်မှ ထွက်သွားသောနောက်၊ထာ
ဝရဘုရားသည်ဒါဝိဒ် ခတ်တော်မူသဖြင့်၊ဥရိယ
မယားတွင်ဖွားမြင်သောဒါဝိဒ်၏သားသည်ဖြင်း
၁၇ နာသောဝေဒနာကိုခံရ၏။- ဒါဝိဒ်သည် သူငယ်
အတွက်ထာဝရဘုရားအားတောင်းပန်လေ၏၊
အစာကို ရှောင်လျက်၊ အထဲသို့ ဝင်၍ တညည့်
၁၈ လုံးမြေပေါ်မှာအိပ်လျက်နေ၏။-နန်းတော်သား
အသက်ကြီးသူတို့သည်ထ၍ကိုယ်တော်ကိုနိုးကြွ
ဆဲ့သောငှါ ချည်း ကပ် ကြ သော် လည်း၊ ဒါဝိဒ်
သည်ငြင်းပယ်၍သူတို့နှင့်အတူ အစာမစားဘဲ
၁၉ နေ၏၊- ခုနှစ်ရက်ရှေ့သော်သူငယ်သေ၏၊ ဒါဝိဒ်
၏ကျွန်တို့ကလည်း၊ သူငယ်အသက်ရှင်စည်အခါ
ငါတို့ လျှောက်သောစကားကို နားထောင်တော်
မမူသည်ဖြစ်၍၊ သူငယ်သေကြောင်းကိုလျှောက်
လျှင် အ လွန် ကိုယ် ကို ကိုယ် ညှည်း ဆဲ တော်
မူလိမ့်မည်ဟုဆိုလျက်၊ သူငယ်သေကြောင်းကို
၂၀ မလျှောက်ဝံ့ကြ။- သို့ရာတွင်၊ ကျွန်တို့သည်တိုး
တိုးပြောသောစကားကို ဒါဝိဒ်သည်ကြားလျှင်၊
သူငယ်သေကြောင်းကိုရိပ်မိသဖြင့်၊ သူငယ်သေ
ပြီသောဟု ကျွန် တို့ကို မေး တော် မူ၏၊ သူတို့က
၂၁ ထည်း၊ သေပါပြီဟုလျှောက်ကြ၏၊-ထိုအခါဒါ
ဝိဒ်သည် မြေမှထ၍ရေချိုးခြင်း၊ ဆီလိမ်းခြင်း၊
အဝတ် လဲခြင်းကို ပြုပြီးလျှင်၊ ထာဝရ ဘုရား၏
အိမ်တော်သို့သွား၍ကိုးကွယ်၏၊ထိုနောက်၊နန်း
တော်သို့ပြန်လာ၍ စားစရာကိုတောင်းသောအ
ခါ၊ ကျွန်တို့သည် စားပွဲတော်ကို ပြင်၍ မင်းကြီး
၂၂ သည်စားတော်မူ၏။- ကျွန်တို့ကထည်း၊ ကိုယ်
တော် သည် အဘယ် သို့ ပြုတော် မူသနည်း၊ သူ
ငယ်အသက် ရှင်စည်အခါ၊ သူငယ်အတွက် အ
စာရှောင်လျက် ငိုကြွေးလျက် နေတော်မူ၏၊ သူ
ငယ်သေသောအခါထ၍စားတော်ခေါ်ပါသည်
၂၂ တကားဟုလျှောက်လျှင်- ဒါဝိဒ်က၊ သူငယ်အ
သက် ရှင်စည်အခါ၊ ဘုရားသခင်သည် ကယ်မ
သနား တော်မူ၍၊ သူငယ်အသက်ကို ချမ်းသာပေး
တော် မူမည် မမူ မည် ကို အဘယ်သူ ဆိုနိုင်သ
နည်းဟုအောင်းမေ့လျက်၊ ငါသည်အစာရှောင်
၂၃ ၍ ငိုကြွေးလျက် နေ၏။- ယခုမှာ သူငယ်သေပြီး
အဘယ် ကြောင့် အစာ ရှောင် ရမည် နည်း၊ သူ
ငယ်ကိုပြန်၍ ဆောင်ခဲ့နိုင် သလော၊ သူရှိရာသို့
ငါသွားရမည်၊သူသည်ငါရှိရာသို့မပြန်မလာရ
၂၄ ဟုမိန့်တော်မူ၏။- တဖန်ဒါဝိဒ်သည်ခင်ပွန်းဗာ
သရှေဘကို နှစ်သိမ့် စေသဖြင့်၊ သူထံသို့ ဝင်၍
ဆက်ဆံလေ၏၊သူသည်လည်း၊သားယောက်ျား
ကိုဖွားမြင်၍ရှောလမုန်အမည်ဖြင့်အမှည့်ထေ
၂၅ ၏။- ထာဝရ ဘုရား သည် ထိုသူ ငယ် ကို ချစ် ၍
ကျေးဇူးပြုတော်မူသဖြင့်၊ပရောဖက်နာသန်ကို
စေခိုင်း၍ယေဒိဒိအမည်ဖြင့်မှည့်တော်မူ၏။
၂၆ ယွာဘ သည်လည်းအမ္မုန်ပြည်၊ ရဗ္ဗာမြို့ကို
၂၇ တိုက်၍ မြို့တော်ကိုရပြီးမှ- ဒါဝိဒ်ထံတော်သို့လူ
ကိုစေလွှတ်၍၊ ကျွန်တော်သည်ရဗ္ဗာမြို့ကိုတိုက်
၍ ကန်တော်ရှိရာ မြို့ကိုရပါပြီ။- ယခုမှာကြွင်း
သော လူတို့ကို စုဝေးစေသဖြင့်၊ မြို့နားမှာ တပ်
တော်ချ၍တိုက်ယူတော်မူပါ၊ သို့မဟုတ်၊ ကျွန်
တော်ယူ၍ ကျွန်တော်အမည်ဖြင့် မြို့ကိုသမုတ်
၂၉ ကြလိမ့်မည်ဟုလျှောက်လျှင်၊- ဒါဝိဒ်သည်လူအ
ပေါင်းတို့ကို စုဝေးစေသဖြင့်၊ ရဗ္ဗာမြို့သို့ချီသွား
၃၀ ၍တိုက်ယူလေ၏၊-မင်းကြီး၏သရဖူကိုချွတ်ယူ
၍ ခေါင်းတော်ပေါ်မှာတင်ကြ၏၊ သရဖူ အရှိန်
ကား ကျောက်မြတ်ကို မဆိုဘဲ၊ ရွှေအခွက် တ
ဆယ်ရှိသတည်း၊ မြို့၌လုယူသော ဥစ္စာအများ
၃၁ ကိုထည်း ယူတ် လေ၏။- မြို့သား တို့ကို ထည်း
ထုတ်ဆောင်၍၊ လွှတိုက်မှု၊ သံထွန်၊ သံပုဆိန်
နှင့်အလုပ်မှုကိုလုပ်စေ၍ ဖုတ်မိုဖို၌ထည်းကျွင်
ထည်စေ၏၊ ထိုသို့ဒါဝိဒ်သည် အမ္မုန်မြို့သူ ရွာ
သား အပေါင်းတို့၌ပြုပြီးမှ၊ လူအပေါင်းတို့နှင့်
အတူယေရုရှလင်မြို့သို့ပြန်လေ၏။

၁၃

၁ ဒါဝိဒ်၏သား အဗရှလုံ၌၊ တာမာ အမည်ရှိ
သောအဆင်းလှသော နှမတယောက်ရှိ၏၊ ဒါ
ဝိဒ်၏ သား အာမနုန်သည် ထိုနှမ ကို ချစ်ထေ
၂ ၏။-ချစ်အားကြီးသောကြောင့်နာ၍နေ၏၊ နှမ
တော်သည်အပျိုကညာဖြစ်၏၊သူ၌အဘယ်သို့
အထိုပြည့်စုံမည်ကို အာမနုန်သည် ခြိမ်၍မှ

၃ ရှိင်း၊– ရှိမ္မာ၏သားကို မှီမာသား ယောနဒပ်သည်
အာမနုန်၏ အဆွေခင်ပွန်း ဖြစ်၏။ ထိုယောနဒပ်
၄ သည် လိမ္မာသောသူ ဖြစ်၏။– ကိုယ်တော်သည်
ရှင်ဘုရင်၏ သားတော် ဖြစ်လျက်၊ အဘယ်
ကြောင့် တနေ့ထက် တနေ့ ပိန်ကြုံ တော်မူ သ
နည်း။ ကျွန်တော်ကို မပြောချင်သလောဟုမေး
လျှင်အာမနုန်က၊ ငါ့ညီအဗရှလုံ၏နှမတာမာ
၅ ကိုတပ်သောစိတ်ရှိသည်ဟုပြန်ပြော၏။–ယော
နဒပ်ကလည်း၊ ရုတင်ပေါ်မှာ တုံးလုံးနေ၍ နာ
ဟန်ဆောင်ပါ၊ ခမည်းတော်သည် အကြည့်အ
ရှုကြွလာတော်မူသောအခါ၊ အကျွန်ုပ် နှမ
တာမာလာ၍ကျွေးမွေးပါစေ၊ သူချက်သောစား
စရာကို အကျွန်ုပ်သည် မြင်၍ သူ့လက်၌ စားရ
စည်အကြောင်း၊ အကျွန်ုပ်ရှေ့မှာချက်ပါစေဟု
အခွင့်တောင်းရမည်ဟု အကြံပေးသည်အတိုင်း–
၆ အာမနုန် သည် တုံးလုံးနေ၍ နာဟန် ပြု၏။ ရှင်
ဘုရင်သည် အကြည့်အရှု ကြွလာတော်မူသော
အခါ၊ အာမနုန်က အကျွန်ုပ် နှမတာမာလာ
ပါစေ၊ သူ့လက်၌ အကျွန်ုပ်သည် စားရမည် အ
ကြောင်း၊ အကျွန်ုပ်ရှေ့မှာ မုန့်ပြား နှစ်ပြားကို
လုပ်ပါစေဟု၊ ရှင်ဘုရင် အား အခွင့် တောင်း
၇ လေ၏။ ဒါဝိဒ်သည်လည်း၊ တာမာအိမ်သို့ လူ
ကိုစေလွှတ်၍၊ သင်၏မောင် အာမနုန် အိမ်သို့
သွားပြီးလျှင်၊ စားစရာကို ချက်ပေးပါဟု မှာ
၈ ထိုက်သည်အတိုင်း၊–တာမာသည်မောင်အာမ
နုန်အိမ်သို့ သွား၍ အာမနုန် သည် တုံးလုံးနေ၏။
တာမာသည်မုန့်ညက်ကိုယူ၍နယ်ပြီးမှ၊မောင်
၉ ရှေ့မှာမုန့်ပြားတို့ကိုလုပ်၍ဖုတ်လေ၏။– ဒယ်အိုး
ပြားကို ထည်း ယူ၍ အာမနုန်ရှေ့မှာ သွန်း
ထားသော်လည်း၊ သူသည်မစားဘဲလူအပေါင်း
တို့ကို ငါ့ထံမှ ထွက်သွားစေဟု ဆိုသဖြင့်၊ လူအ
၁၀ ပေါင်းတို့ထည်ထွက်သွားကြ၏။– တာမာအား
လည်း၊ ထင့်သက်၌ ငါစားရအောင် အခန်းထဲ
သို့ယူခဲ့လော့ဟုဆိုသည်အတိုင်း၊တာမာသည်
မိမိ လုပ်သော မုန့်ပြားတို့ကိုယူ၍၊ မောင်အာမ
၁၁ နုန်ရှိရာအခန်းထဲသို့ဝင်လေ၏။–ထိုသို့အာမနုန်
စားစရာသို့ ယူခဲ့သောအခါ၊ သူသည်နှမထက်
၁၂ ကိုဆွဲ၍ငါ့နှမ၊ ငါနှင့်အိပ်ပါဟုဆို၏။– တာမာ
ကလည်း မပြုပါနှင့် မောင်၊ ငါ့ကို မရှုတ်ချပါ
နှင့်၊ ဣသရေလအမျိုး၌ ဤသို့သော အမှုကိုမပြု
၁၃ သင့်၊ ဤအမှုဆိုးကိုမပြုပါနှင့်၊–ပြုလျှင်ငါသည်
ရှက်ခြင်းနှင့် အဘယ်သို့ ကင်းလွတ်မည်နည်း။
သင် သည်လည်း ဣသရေလ အမျိုး၌ လူမိုက်ကဲ့
သို့ဖြစ်လိမ့်မည်။ သို့ဖြစ်၍ ရှင်ဘုရင်ကိုလျှောက်
ပါလော့၊ လျှောက်လျှင်မပေးစားဘဲနေတော်မမူ
၁၄ ပါဟုပြောဆိုသော်လည်း၊– အာမနုန်သည်နား
မထောင်၊ နှမထက်အားကြီးသဖြင့်အနိုင်ပြု၍
၁၅ အိပ် လေ၏။– ထမန် အာမနုန်သည် နှမကို အ
လွန်ရွံရှာ၏။ အရင်ချစ်အား ကြီးသည်ထက်
ရွံရှာအားသာ၍ကြီးသဖြင့်၊ သင်ထ၍သွားလော့
၁၆ ဟုဆို၏။– နှမကလည်း၊ အကြောင်းမရှိပါ၊ ငါ
၌ပြုဘူးသောအပြစ်ထက်ယခုနှင်ထုတ်သောအ
ပြစ်သာ၍ကြီးသည်ဟုဆိုသော်လည်း၊ အာမနုန်
၁၇ သည်နားမထောင်၊– အစေခံ ကျွန်တယောက်ကို
ခေါ်၍ ဤမိန်းမကို နှင်ထုတ်လော့၊ သူ့နောက်မှာတံ
၁၈ ခါးကျင်ထိုးလော့ဟုမိန့်ရင်၏။– အပျိုကညာဖြစ်
သောရှင်ဘုရင်၏ သမီးတော် ဝတ်တတ်သည့်အ
တိုင်း၊ အဆင်းအရောင်ထူးခြားသောအဝတ်ကို
ဝတ်လျက်ရှိသောတာမာကိုအစေခံကျွန်သည်
နှင်ထုတ်၍၊ သူ့နောက်မှာ တံခါးကျင် ထိုး လေ
၁၉ ၏။– တာမာ သည် ထည်း ခေါင်းပေါ်မှာ ပြာကို
တင်၍၊ အဆင်း အရောင် ထူးခြား သော အဝတ်
ကိုဆုတ်ပြီးမှ၊ ခေါင်းပေါ်၌လက်တင်၍ ငိုကြွေး
၂၀ လျက်ပြန်သွား၏။–မောင်ရင်းအဗရှလုံကလည်း၊
ငါ့အစ်ကိုအာမနုန်သည် သင်နှင့်အတူရှိပြီလော၊
သို့သော်လည်း ငါ့နှမ၊ တိတ်ဆိတ်စွာနေလော့။
သူသည်သင်၏မောင်ဖြစ်၏။ ဤအမှုကိုမမှတ်နှင့်
ဟုဆိုသော်၊ တာမာသည် မိမိမောင်အဗရှလုံအိမ်
၂၁ ၌ ဆိတ်ငြိမ်စွာ နေ၏။– ဒါဝိဒ်မင်းကြီးသည်ထိုအ
မှုအလုံးစုံကိုကြားသိသောအခါ အလွန်အမျက်
၂၂ ထွက်၏။–အဗရှလုံသည်အစ်ကိုအာမနုန်အား
ကောင်းသောစကား၊ မကောင်းသောစကားကို
မပြော။ သို့ရာတွင်၊ နှမတာမာကိုရှုတ်ချသော
ကြောင့်အမုန်းထား၏။
၂၃ ထိုနောက်၊ နှစ်နှစ်ရှေ့သော အခါ အဗရှလုံ
သည် ဧဖရိမ်မြို့အနား၊ ဗာလဟာဇော်ရွာမှာ
သိုးမွေးညှပ်ပွဲကိုခံ၍ရှင်ဘုရင်၏သားတော်အ
၂၄ ပေါင်းတို့ကို ခေါ်ဖိတ်လေ၏။– အဗရှလုံ သည်
လည်း၊ ရှင်ဘုရင် ထံတော်သို့ သွား၍၊ ကိုယ်
တော်ကျွန်သည် သိုးမွေးညှပ်ပွဲကိုခံပါ၏။ ကျွန်
များတို့ကို ခေါ်၍၊ ကိုယ်တော် ကျွန်နှင့်အတူ
ကိုယ် တော် ထိုင် ကြွ တော် မူ ပါဟု လျှောက်
၂၅ လျှင်၊– ရှင်ဘုရင်က မသွားသင့် ငါ့သား၊ လူအ
ပေါင်းတို့ကို မသွားစေနှင့်၊ စရိတ်များမည်ကို

မိုးရိမ်စရာရှိသည်ဟုဆိုသဖြင့်၊ အဗရှလုံသွေး
ဆောင်သော်လည်း ကိုယ်တော်တိုင် မလိုက်ဘဲ
၂၆ ကောင်းကြီးပေး၏။- အဗရှလုံကလည်း၊ လိုက်
တော် မမူလျှင်၊ နောင်တော် အာမနုန် လိုက်ရ
သောအခွင့်ကို ပေးတော်မူပါဟု လျှောက် ပြန်
သော်၊ ရှင်ဘုရင်ကအဘယ်ကြောင့် လိုက်စေရ
၂၇ မည်နည်းဟု ဆိုသော် လည်း- အဗရှလုံ ပူဇာ
သောကြောင့် အာမနုန်မှစ၍ သားတော်ရှိသမျှ
၂၈ လိုက်ရသောအခွင့်ကိုပေးတော်မူ၏။-အဗရှလုံ
ကလည်း၊ အာမနုန်သည်စပျစ်ရည်ကိုသောက်
၍ ရွှင်လန်းသောအခါစောင့်နေကြ။အာမနုန်ကို
ထိုးခုတ် ကြဟု ငါ ဆိုသော အခါ၊ သေအောင်
ထုပ်ကြကြ။ မစိုးရိမ် ကြနှင့်။ ငါစီရင် သည် မ
ဟုတ်လော။အားယူ၍ရဲရင့်ခြင်းရှိကြလော့ဟု၊
၂၉ မိမိကျွန်တို့အား မှာထားနှင့်သည်အတိုင်း- သူ
တို့သည်အာမနုန်ကိုပြုကြ၏။ထိုအခါရှင်ဘုရင်
၏သားတော်အပေါင်းတို့သည်ထ၍သားကိုစီး
၃၀ လျှက်ပြေးသွားကြ၏၊- သူတို့မရောက်မှီအခြား
သူလာ၍ အဗရှလုံသည် အရှင်မင်းကြီး၏သား
တော်အပေါင်းတို့ကိုသတ်ပါပြီ။တယောက်မျှမ
၃၁ ကျန်ကြွင်းပါဟုနားတော်လျှောက်လေ၏။- ရှင်
ဘုရင်သည် ထ၍ အဝတ် တော်ကို ဆုတ် လျှက်
မြေပေါ်မှာတုံးလုံးနေ၏၊ ကျွန်တော်အပေါင်းတို့
သည်လည်း၊ မိမိတို့ အဝတ်ကို ဆုတ်လျှက် အ
၃၂ နားတော်၌နေကြ၏၊- ဒါဝိဒ်အစ်ကိုရှိမာ၏သား
ယောနဒပ်က၊ အရှင် မင်း ကြီး၏ သား တော် အ
ပေါင်းတို့ကို သတ်လေပြီဟူသော စကားကိုယုံ
တော် မ မူ ပါနှင့်။ အာမနုန် တ ယောက် တည်း
သာသေပါပြီ။အဗရှလုံနှစ်မတာမာကိုအာမနုန်
သည်ရှုတ်ချသောနေ့မှစ၍ ဤအမှုကိုသူ၏မောင်
၃၃ စီရင်ပါပြီ။- ယခုမှာကျွန်တော်သခင်အရှင်မင်း
ကြီး၏သားတော် အပေါင်း တို့သည် သေကြပြီ
ဟုထင်လျှက်၊ မိတ် ညှိုး ငယ် တော် မမူပါ နှင့်။
အာမနုန်တယောက်တည်းသာသေ၍အဗရှလုံ
၃၄ လည်းပြေးပါလိမ့်မည်ဟု လျှောက်လေ၏။-ထို
အခါကင်းစောင့်လုလင်သည်မျှော်ကြည့်၍၊မိမိ
နောက်၌ တောင် မြေရင်း လမ်းမှာ လူများ လာ
၃၅ သည် ကို မြင် ၏၊- ယောနဒပ်က လည်း၊ အရှင်
မင်းကြီး၏ သားတော် တို့သည် လာ ကြ ပါပြီ။
ကိုယ်တော်ကျွန် ပြောသော စကား မှန်ပါ၏ ဟု
၃၆ လျှောက်သည်အဆုံး၌- ရှင်ဘုရင်၏သားတော်
တို့သည် ရောက် လာ၍ အသံ ကို ဘွင့် လျှက် ငို

ကြွေးကြ၏။ ရှင်ဘုရင်နှင့်ကျွန်တော် အပေါင်း
၃၇ တို့သည်ပြင်းစွာငိုကြွေးကြ၏၊- အဗရှလုံသည်
ပြေး၍ဂေရှုရ မင်းကြီး အမိဟုဒ် သား တာလမဲ
ထံသို့သွားမ၏။ ဒါဝိဒ်သည် မိမိသား ကြောင့် နေ့
၃၈ တိုင်းငိုကြွေးမြည်တမ်းလေ၏။-အဗရှလုံသည်
ဂေရှုရမြို့သို့ပြေးပြီးမှသုံးနှစ်နေ၏။

၁၄

၃၉ တဖန် ဒါဝိဒ် မင်း ကြီး သည် အာမနုန် သေ
သောကြောင့်၊ ထိုသူကို အောင်း မေ့သော မိတ်
အား လျှော့ သဖြင့်၊ အဗရှလုံ ကို လွမ်း ဆွတ်
၁ လျှက် နေ၏။- ထိုသို့ ရှင်ဘုရင်၏ စိတ် နှစ်လုံး
သည် အဗရှလုံသို့ ပါသွား ကြောင်းကို၊ ဇေရု
၂ ယာသား ယွာဘသည် ရိပ်မိသော အခါ- တေ
ကောမြို့သို့ စေလွှတ်၍ ပညာရှိသော မိန်းမကိုခေါ်
ပြီးလျှင်၊ သင်သည်ဆီမလိမ်းပါနှင့်။မိတ်မသာ
ညည်းတွား ဟန်ပြု၍ မသာအဝတ်ကို ဝတ်ပါ
လော့၊လူသေအတွက်ကြာမြင့်စွာငိုကြွေးသော
၃ မိန်းမရောင် ဆောင်လျှက်- ရှင်ဘုရင် ထံတော်သို့
ဝင်၍ဤသို့လျှောက်ရမည်ဟု သွန်သင်လေ၏။-
၄ ထိုတေကောမြို့သူမိန်းမသည်အထံတော်သို့ဝင်၍၊
မြေပေါ်မှာ ပြပ်ဝပ် ရှိခိုးလျှက် အရှင် မင်းကြီး၊
ကယ်မ သနားတော် မူပါဟု လျှောက် လေ၏။-
၅ ရှင်ဘုရင်ကလည်း၊ အဘယ်အမှု ရှိသနည်းဟု
မေးတော်မူလျှင်မိန်းမက၊ ကျွန်တော်မသည် လင်
သေသောမုဆိုးမဖြစ်ပါ၏။-ကိုယ်တော်ကျွန်မ၌
သားနှစ်ယောက်ရှိပါ၏။ထိုသားနှစ်ယောက်တို့
သည် မိုက်ရန် ပြုကြပါ၏။ ဖျန်ဖြေသောသူ မရှိ
သောကြောင့်၊ တယောက် သည် တယောက်ကို
၇ သေသည်တိုင်အောင်လုပ်ကြပါ၏။-ယခုမှာအ
ဆွေအမျိုးအပေါင်းတို့သည် ကိုယ်တော်ကျွန်မ
တဖက်၌ထကြ၍၊ အစ်ကိုကိုသတ်သော သူကို
သေစား သေစေခြင်းငှါအပ်ရမည်။ အမွေခံကို
လည်း ငါတို့ပယ်ရှင်းမည်ဟု ဆိုကြပါ၏။ ထိုသို့
ပြုလျှင်၊ ကျွန်တော်မ၌ကျန်ကြွင်းသေးသောမီး
ခဲကိုသူတို့သည်သတ်ကြပါလိမ့်မည်။ကျွန်တော်
မလင်၏ အမည်ကိုရင်၊ အကျန်အကြွင်းကိုရင်၊
မြေကြီးပေါ်က သုတ်သင် ပယ်ရှင်း ကြပါလိမ့်
၈ မည်ဟုလျှောက်လေသော်-ရှင်ဘုရင်ကသင့်အိမ်
သို့ပြန်သွားလော့။ သင့် အမှုကိုငါစီရင်မည်ဟု
၉ မိန့်တော်မူ၏။- တေကောမြို့သူ မိန်းမက
လည်း၊ အိုအရှင်မင်းကြီး၊ ကျွန်တော်မနှင့်ကျွန်
တော်မ အဆွေအမျိုး၌ အပြစ်ရောက်ပါစေ။ ရှင်

ဘုရင်နှင့်ရာဇပလ္လင်တော်သည်အပြစ်လွတ်ပါ
၁၀ စေဟုလျှောက်လျှင်-ရှင်ဘုရင်က၊သင်၌အပြစ်
တင်သောသူကို ငါထံသို့ခေါ်ခဲ့လော့။နောက်တ
စန်ဆင့်ကို မနှောင့်ရှက်ရဟု မိန့်တော်မူသော်-
၁၁ မိန်းမက သေစား၊ သေစေ သော သူတို့ သည် ကျွန်
တော်မ၏ သား၊ကို သတ်မည်ဟု စိုးရိမ်ပါသည်
ဖြစ်၍၊ သူတို့သည် အထူးသဖြင့် မဖျက်ဆီးစေ
ခြင်းငှါ၊အရှင်မင်း၊ကြီးသည်ကိုယ်တော်၏ဘုရား
သခင် ထာဝရဘုရား၊ကို အောင်းမေ့တော်မူပါ
ဟု လျှောက် ပြန်သော်၊ ရှင်ဘုရင်က၊ ထာဝရ
ဘုရား အသက် ရှင်တော်မူသည်အတိုင်း၊ သင့်
သား၏ ဆံပင် တပင်မျှမြေပေါ်သို့ မကျရဟု မိန့်
၁၂ တော်မူ၏။-တဖန်မိန်းမကလည်း၊ကိုယ်တော်ကျွန်မ
သည်အရှင်မင်းကြီးအား စကား၊တခွန်း၊လျှောက်
ရသောအခွင့်ကို ပေး၊တော်မူပါဟု တောင်း၊ ပန်
၁၃ လျှင်၊ လျှောက်လော့ဟုမိန့်တော်မူ၏။- မိန်းမက
လည်း၊ သို့ဖြစ်လျှင်၊ ကိုယ် တော်သည် ဘုရား
သခင်၏လူတို့တဘက်၌ အဘယ်ကြောင့်ကြံစည်
တော်မူသနည်း၊ အရှင်မင်း၊ကြီး၊ နှင်ထုတ်သော
သူကိုတဖန်ခေါ်တော်မမူသဖြင့်၊ကိုယ်ကိုအပြစ်
၁၄ ထင်၍ မိန့်တော်မူပါပြီတကား။- ငါတို့သည်
သေဆုံး သောသူ ဖြစ်ကြ၏၊ မြေပေါ်မှာ သွန်ပြီး
သွန်နောက်တဖန်ထွေး၍မယူနိုင်သောရေနှင့်တူ
ကြပါ၏၊ ဘုရား၊ သခင် သည် လူမျက် နှာကို မ
ထောက်သော်လည်း၊ နှင်ထုတ်ခြင်း၊ကိုခံရသော
သူသည်အစဉ်နှင်ထုတ်ခြင်း၊ကိုခံ၍မနေရမည်
၁၅ အကြောင်း၊ကြံစည်တော်မူ၏။- သို့ဖြစ်၍၊ ကျွန်
တော်မသည် လာ၍ ဤအမှုကို အရှင် မင်း၊ကြီး
အားလျှောက်ရသည်အကြောင်း၊မှာ၊ ကျွန်တော်
မကြောက် အောင် လူများတို့သည် ပြုကြပါ၏၊
ကိုယ်တော် ကျွန်မ ကလည်း၊ ရှင် ဘုရင်ကို ငါ
လျှောက် မည်၊ ရှင်ဘုရင် သည် ငါတောင်း၊ ပန်
၁၆ သည်အတိုင်း၊ပြု ကောင်း၊ပြုတော်မူမည်၊- ငါနှင့်
သား၊ကိုဘုရားသခင်၏အမွေတော်မြေပေါ်က၊
သုတ်သင်ပယ်ရှင်း၊သောသူ၏လက်မှ၊ငါကိုနှုတ်
ယူသောငှါ နား၊ထောင်တော်မူလိမ့်မည်ဟုဆိုပါ
၁၇ ၏။- ကိုယ်တော်ကျွန်မကလည်း၊ သခင်အရှင်
မင်း၊ကြီး၏အမိန့်တော်ကြောင့် ချမ်း၊သာရမည်၊
ဘုရား၊သခင်၏ ကောင်း၊ကင်တမန်ကဲ့သို့ သခင်
အရှင်မင်း၊ကြီးသည် ကောင်း၊မကောင်း၊ကို ပိုင်း၊
ခြား၍ သိတော်မူ၏ဟု အောင်း၊မေ့ပါ၏၊ ကိုယ်
တော်၏ ဘုရား၊သခင် ထာဝရဘုရား၊သည်ကိုယ်
တော်နှင့်အတူ ရှိတော်မူလိမ့်မည်ဟု လျှောက်
၁၈ ထေ၏။-ထိုအခါရှင်ဘုရင်က၊ ငါမေး၊မြန်း၊သည်
အမှုကိုမထိမ်မဝှက်ပါနှင့်ဟု အမိန့်ရှိသော်၊မိန်း
မကအရှင်မင်း၊ကြီး၊အမိန့်ရှိတော်မူပါဟုလျှောက်
၁၉ လေ၏။- ရှင်ဘုရင်ကလည်း၊၊ ဤအမှု၌ ယွာဘ
သည်သင့်အား၊အကြံပေး၊သည်မဟုတ်လောဟု
မေး၊သော်၊မိန်းမကဖို အရှင်မင်း၊ကြီး၊၊ကိုယ်တော်
အသက် ရှင်တော် မူသည် အတိုင်း၊၊ အရှင် မင်း၊
ကြီး၊ မိန့်တော် မူသော စကား၊ ထမ်း၊မှ လက်ျာ
ဘက်၊လက်ဝဲဘက်သို့အဘယ်သူမျှမလွှဲနိုင်ရာ။
အကယ် စင်စစ် ကိုယ် တော်ကျွန် ယွာဘ သည်
ကျွန်တော်မကိုမှာထား၍၊ ဤစကား၊အလုံး၊စုံတို့
၂၀ ကိုသွန်သင်ပါ၏။-ပရိယာယ်ပြု၍ ဤသို့အရောင်
ဆောင်စေခြင်း၊ငှါ၊ ကိုယ်တော်ကျွန် ယွာဘသည်
စီရင်ပါ၏၊အရှင်သခင်သည်လည်း၊၊ မြေကြီး၊ပေါ်
မှာရှိသမျှတို့ကိုသိနိုင်သည် တိုင်အောင် ဘုရား
သခင်၏ကောင်း၊ကင်တမန်သည်ပညာရှိသကဲ့သို့
ပညာရှိတော်မူသည်ဟု ပြန်လျှောက်လေ၏။
၂၁ ထိုအခါ ရှင်ဘုရင်က၊ ဤအမှုကို ငါစီရင်ရ၏၊
ထင်သွား၍ ထိုလုလင်အဗရှလုံကို တဖန်ခေါ်ရ
၂၂ မည်ဟုယွာဘအား၊မိန့်တော်မူ၏၊-ယွာဘသည်
လည်း၊မြေပေါ်မှာဦး၊ချပြပ်ဝပ်လျက်၊ကျွန်တော်
သခင် အရှင် မင်း၊ကြီး၊၊ ကိုယ် တော် ကျွန် အသ
နား၊ တော် ခံသည့် အတိုင်း၊၊ အရှင်မင်း၊ကြီး၊ ပြု
တော်မူသောကြောင့်၊ကိုယ်တော်ကျွန်သည် ရှေ့
တော်၌ မျက်နှာရကြောင်း၊ကို ကျွန်တော် သိပါ
၂၃ သည်ဟု၊ ကျေး၊ ဇူး၊ တော် ကို ဝန်ခံ လေ၏။- ထို
နောက်၊ ယွာဘသည်ထ၍ဂေရှုရမြို့သို့ သွား၊သ
ဖြင့်၊အဗရှလုံကိုယေရုရှလင်မြို့သို့ဆောင်ခဲ့လေ
၂၄ ၏။- ရှင်ဘုရင်က လည်း၊၊ မိမိအိမ်သို့ သွား၊စေ၊
မျက်နှာကိုမမြင်စေနှင့်ဟုအမိန့်တော်ရှိသည်
အတိုင်း၊၊ အဗရှလုံသည်မိမိအိမ်သို့သွား၍ရှင်
ဘုရင်၏မျက်နှာတော်ကိုမမြင်ရ။
၂၅ ဣသရေလအမျိုး၊တမျိုး၊လုံး၊တွင်၊အဗရှလုံကဲ့
သို့အဆင်း၊လှ၍ ချီး၊မွမ်း၊ရသောသူဟူ၍ယောက်မျှ
မရှိ၊ ခြေဖဝါး၊မှသည်ဦး၊ထိပ်တိုင်အောင်အပြစ်
၂၆ တစုံမျှမရှိ။-ဆံပင်လေး၊သောကြောင့်၊နှစ်တိုင်း၊
ဖြတ်၍တနှစ်လျှင်အကျပ်တော်အတိုင်း၊အကျပ်
၂၇ သုံး၊ ဆယ် ရ တတ် ၏။- အဗရှလုံ သည် သား၊
သုံး၊ယောက် နှင့် တာမာ အမည်ရှိသော သမီး၊တ
ယောက်ကိုမြင်လေ၏၊သမီး၊သည်အဆွန်ဖှာသော
သူဖြစ်၏။

၂၈ အဗရှလုံသည် ရှင်ဘုရင်၏ မျက်နှာတော်ကို မမြင်ရဘဲ နှစ်နှစ်ပတ်လုံး ယေရုရှလင်မြို့၌နေပြီး

၂၉ မှ- ယွာဘကို ရှင်ဘုရင်ထံတော်သို့စေလွှတ်မည် အကြံနှင့်ခေါ်သောအခါ ယွာဘသည်မလာ။-ဒု

၃၀ တိယအကြိမ်ခေါ်သော်လည်းမလာ၊ ထိုကြောင့်၊ ကျွန်တို့အား ယွာဘ၏ လယ်သည် ငါ့လယ်နားမှာ နှင့်နီးပြီ၊ မုယောစပါးရှိ၏၊ သွား၍ မီးရှို့ကြလော့ ဟုမိန့်ရင်သည်အတိုင်း၊ အဗရှလုံ၏ကျွန်တို့သည်မီး

၃၁ ရှို့ကြ၏။-ထိုအခါ ယွာဘသည်အဗရှလုံအိမ်သို့ လာသွား၍၊ ကိုယ်တော်၏ ကျွန် တို့သည် ကျွန်တော်လယ်ကိုအဘယ်ကြောင့်မီးရှို့ကြသနည်း

၃၂ ဟု မေးသော်- အဗရှလုံကငါသည်ဂေရှုရမြို့မှ အဘယ်ကြောင့်လာရသနည်း။ ထိုမြို့၌သာနေလိုင် ဖောင်နေကောင်းသည်ဟု လျှောက်စေခြင်းငှါ၊ သင့်ကို ရှင်ဘုရင်ထံတော်သို့စေလွှတ်မည်ဟု ငါ ခေါ်၏၊ ယခုမှာရှင်ဘုရင်၏မျက်နှာတော်ကို ငါ မြင်ပါရစေ၊ အပြစ်ရှိလျှင်သတ်တော်မူပါစေဟု

၃၃ ယွာဘ အား ပြောဆိုသော်- ယွာဘသည် ရှင် ဘုရင်ထံတော်သို့ သွား၍လျှောက် သဖြင့်၊ အဗ ရှလုံကိုခေါ်တော်မူ၏၊ အဗရှလုံသည်လာ၍ရှင် ဘုရင်ရှေ့တော်၌ဦးချပြပ်ဝပ်၏၊ ရှင်ဘုရင်သည် လုကိုနမ်းတော်မူ၏။

၁၅

၁ ထိုနောက်မှ၊ အဗရှလုံ သည် ရထားများနှင့် မြင်း၊ များကိုဋ၆၊ မိမိရှေ့မှာပြေးရသော လူငါး

၂ ဆယ်ကိုဋင်ပွှင်ဆင်လေ၏၊-အဗရှလုံသည်စော စောထ၍တံခါး၀မှာရပ်နေတတ်၏၊ အမှုရှိသော သူသည် စီရင်တော်မူခြင်းကိုခံဆဲ့သောငှါ၊ ရှင် ဘုရင်ထံတော်သို့ လာသောအခါ၊ အဗရှလုံက သင်သည် အဘယ်မြို့သားဖြစ်သနည်းဟု မေး လျှင်၊ ထိုသူက ကိုယ်တော် ကျွန် သည် ဣမည် သောဣသရေလအမျိုးအနွယ်သားဖြစ်ပါ၏ဟု

၃ ပြန်လျှောက်သော်-အဗရှလုံကသင့်အမှုသည် ထုတ်မှန် လျောက်ပတ် ပေ၏၊ သို့သော် လည်း သင့်အမှုကို ရှင်ဘုရင်မှ စ၍ အဘယ်သူမျှနားမ

၄ ထောင်ဟုပြောဆိုတတ်၏၊- တပန်တုံ၊ ငါ၊သည် ဤပြည်၌ တရားစီရင်သောမင်းဖြစ်ပါစေသော သို့ဖြစ်လျှင်၊ တရားမှုရှိသောအမှုသည်အပေါင်း တို့သည်ငါ့ထံသို့လာ၍၊ ငါသည် တရားသဖြင့်စီ

၅ ရင်မည်ဟုဆိုတတ်၏၊-လူတစုံတယောက်သည် ရှိသေစွာပြု၍ ချည်းကပ်သောအခါ၊ အဗရှလုံ သည် လက်ကိုဆန့်၍ ထိုသူကိုကိုင်လျှက် နမ်း

၆ တော်မှ၏။- ထိုသို့စီရင်တော်မူခြင်းကိုခံဆဲ့သော ငှါ၊ ရှင်ဘုရင်ထံတော်သို့လာသောဣသရေလအ မျိုးသားအပေါင်းတို့အား အဗရှလုံပြု၍၊ သူတို့

၇ စိတ်နှစ်လုံးကိုခိုးလေ၏၊-လေးနှစ်လွန်သောအ

၈ ခါ၊ အဗရှလုံယည် ရှင်ဘုရင်ထံတော်သို့ဝင်၍ ထာဝရဘုရားသည်အတွက်ပ်ကို တခန်ယေရုရှ လင်မြို့သို့ ဆောင် တော် မူလျှင်၊ ထာဝရဘုရား ဝတ်ကို အကျွန်ုပ်ပြုပါမည်ဟု၊ ကိုယ်တော်ကျွန် သည်ရှုရိပြည် ဂေရှုရမြို့၌ နေသောအခါ သစ္စာ ဂတိပြုပါပြီ၊ သို့ဖြစ်၍၊ ကျွန်တော်သည်ထာဝရ ဘုရားအား သစ္စာဂတိ ပြုသည် အတိုင်း၊ ဟေ ဗြုန် မြို့သို့ သွား၍ သစ္စာ ဝတ်ကို ဖြေရမည် အ ကြောင်း၊ အခွင့်ပေးတော်မူပါဟု လျှောက်လျှင်-

၉ ရှင်ဘုရင်က၊ ငြိမ်ဝပ်စွာသွားလေဘုဟု မိန့်တော် မူ၏၊ ထိုအခါ အဗရှလုံသည်ထ၍ ဟေဗြုန်မြို့

၁၀ သို့ သွား၏၊- သို့ရာတွင်၊ လျှို့ဝှက်သောလူတို့ကို ဣသရေလအမျိုးအနွယ်ရှိသမျှသို့အနှံ့ အပြား စေလွှတ် သဖြင့်၊ သင်တို့သည် တံပိုး မှုတ်သံကို ကြားသောအခါ၊ အဗရှလုံသည် ဟေဗြုန်မြို့၌ နန်း ထိုင်တော် မူပြီဟု ပြောဆိုကြလော့ဟု မှာ

၁၁ ထား လေ၏၊- အဗရှလုံ ခေါ်သော လူ နှစ်ရာ တို့ သည်ယေရုရှလင်မြို့ထဲက ထွက်သွားကြ၏၊ လူ တို့သည်အဘယ်အမှုကိုမျှမသိဘဲကောင်းသော

၁၂ စိတ် နှင့် လိုက် ကြ၏၊- ဒါဝိဒ်၏ တိုင် ပင် မတ်၊ ဂိ လောမြို့သား အဟိသောဖေလသည် မိမိနေရာဂိ လောမြို့၌ ယဇ်ပူဇော်လျက်ရှိ၍ အဗရှလုံခေါ် လေ၏၊ အဗရှလုံ နောက်သို့ လိုက် သော လူတို့ သည်တိုးပွားများပြားသဖြင့်၊ ပုန်ကန်ခြင်းအမှု အားကြီးလေ၏။

၁၃ သိတင်းပြောသောသူတယောက်သည်ဒါဝိဒ်ထံ သို့လာ၍၊ ဣသရေလအမျိုးသားတို့၏ စိတ်နှလုံး သည်အဗရှလုံထက်သို့ပါသွားပါပြီဟုကြား

၁၄ လျှောက်လေ၏၊- ဒါဝိဒ်ကလည်း၊ ငါတို့သည် ထ၍ပြေးကြကုန်အံ့၊မပြေးလျှင်၊အဗရှလုံလက် နှင့်မလွတ်၊ အလျင်အမြန်ထွက်ကြကုန်အံ့၊ သို့မ ထုတ်လျှင်၊ သူသည်ချက်ချင်းလိုက်လာသဖြင့်၊ ငါတို့ကိုဘေးပြု၍မြို့ကိုလည်းထားနှင့်လုပ်ကြ လိမ့်မည် ဟု၊ ယေရုရှလင် မြို့တွင် အထံတော် ၌ရှိသော ကျွန်အပေါင်း တို့အား မိန့်တော်မူ၏၊-

၁၅ ရှင်ဘုရင်၏ ကျွန်တို့ ကလည်း၊ အရှင် မင်းကြီးစီ ရင်တော် မူသမျှကို ကိုယ်တော်ကျွန်တို့သည်

၁၆ ပြုပါမည်ဟု လျှောက်ကြလျှင်၊-ရှင်ဘုရင်သည်

နန်းတော်ထားသော မယားငယ်ဆယ်ယောက်ကိုထားခဲ့၍ မင်းကြီးသည် ထွက်သွား
၏။ ထိုရာတွင်၊ နန်းတော်ကို စောင့် စေခြင်းငှါ၊
ကိုယ်လုပ်တော်မိန်းမကြီးဆယ်ယောက်ကိုထားခဲ့လေ၏။
၁၇ ထိုသို့ရှင်ဘုရင်နှင့် ကိုယ်တော်၌ ပါသောသူအ
ပေါင်းတို့သည်ထွက်သွား၍ ဝေးသောအရပ်၌ရပ်
၁၈ နေကြ၏။ ကျွန်တော်မျိုးအပေါင်းတို့
သည်ခြံရံလျက်လိုက်ကြ၏။ ဂါသမြို့မှလိုက်လာ
သော သူခြောက်ရာ တည်းဟူသော ဂိတ္တိလူ အ
ပေါင်းနှင့် ခေရသိလူ၊ ပေလသိလူအပေါင်းတို့
၁၉ သည်ရှေ့တော်၌ရှိသွားကြ၏။ ထိုအခါရှင်ဘုရင်
သည် ဂိတ္တိလူ ဣတ္တဲ အား၊ သင်သည်၊ ငါတို့နှင့် အ
တူ အဘယ်ကြောင့်လိုက်သနည်း။ ရှင်ဘုရင်ထံသို့ပြန်
၍နေလော့။ သင်သည်တပါးအမျိုးသား၊ နေရာ
၂၀ မကျသောသူဖြစ်၏။ မနေ့ကသာရောက်
လာသည်ဖြစ်၍၊ ယနေ့ငါတို့နှင့်အတူအရပ်ရပ်
လှည့်လည်ရမည်လော။ ငါသည် သွားရသော
အရပ်မသိသည်အတိုင်းသွားရသောကြောင့်၊ သင်
သည် အမျိုးသားချင်းတို့ကိုခေါ်၍ ပြန်လော့။
ကရုဏာနှင့် သစ္စာရှိပါစေသောဟု မိန့်တော်မူ
၂၁ ၏။ ဣတ္တဲကလည်း၊ ထာဝရဘုရားအသက်၊ အ
ရှင်မင်းကြီးအသက် ရှင်တော်မူသည်အတိုင်း၊
အကယ်၍အရှင်မင်းကြီးအသက်တော်ဆုံးသည်
ဖြစ်စေ၊ ရှင်သည်ဖြစ်စေ၊ ရှိတော်မူရာအ
ရပ်၌ကိုယ်တော်ကျွန်ရှိပါလိမ့်မည်ဟုရှင်ဘုရင်
၂၂ အားပြန်လျှောက်သော်- ဒါဝိဒ်က၊ ရှေ့သွားလော့
ဟုဣတ္တဲအား မိန့်တော် မူသဖြင့်၊ ဂိတ္တိလူဣတ္တဲ
သည်မိမိ၌ ပါသောလူကြီးလူငယ် အပေါင်းတို့
၂၃ နှင့်တကွ ရှေ့သွားလေ၏။ ပြည်သူ ပြည်သားအ
ပေါင်း တို့သည် ကြီးစွာ ငိုကြွေးကြ၏။ နောက်
တော်၌လိုက်သောသူအပေါင်းတို့သည်ရှေ့သွား
၍၊ ရှင် ဘုရင် သည် ကိုယ် တော် တိုင် ကေဒြုန်
ချောင်းကို ကူးလျှင်၊ လူအပေါင်းတို့သည်ကူး၍
တောလမ်းသို့လိုက်သွားကြ၏။
၂၄ ဇာဒုတ်နှင့်လေဝိလူအပေါင်းတို့သည်လည်း၊
ဘုရားသခင်၏ပဋိညာဉ်သေတ္တာတော်ကိုထမ်း
လျက် ရောက် လာ၍ သေ တ္တာ တော်ကို ချထား
ကြ၏။ လူ အပေါင်း တို့ သည် မြို့ထဲက ထွက်၍
မကုန်မှီတိုင်အောင်အဗျာသာသည်ယဇ်ပူဇော်
၂၅ လျက်နေ၏။- ရှင်ဘုရင်သည်ဇာဒုတ်ကိုခေါ်၍၊
ဘုရားသခင်၏သေတ္တာတော်ကို မြို့ထဲသို့ ပြန်ပို့
လော့။ ထာဝရဘုရားသည် ငါ့ကို မိတ်တော်နှင့်
တွေ့လျှင်၊ ငါ့ကိုပို့ပြန်၍ သေတ္တာ တော်ကို ၎င်း၊
ကျိန်း ဝပ် တော် မူရာ အ ရပ်ကို ၎င်း ပြ တော် မူ
၂၆ မည်။- သို့မဟုတ်၊ သင့်ကိုငါအလိုမရှိဟုမိန့်တော်
မိန့်တော်မူလျှင်ငါရှိပါ၏။ အလိုတော်ရှိသည်အ
၂၇ တိုင်း ပြုတော်မူစေသတည်းဟူ၍ ၎င်း- ယဇ်ပု
ရောဟိတ်ဇာဒုတ်အားလည်း၊ သင်သည်ပရော
ဖက်ဖြစ်သည်မဟုတ်လော။ သင်၏သား အဟိ
မတ်နှင့်အဗျာသာ၏သား ယောနသန်၊ ထိုသား
နှစ်ယောက်ကိုခေါ်၍၊ မြို့သို့ငြိမ်ဝပ်စွာပြန်သွား
၂၈ လော့။- သင်တို့ကြားလျှောက်စေသောစကား
မရောက်မှီငါသည်တောလွင်ပြင်၌ဆိုင်းလင့်၍
၂၉ နေမည်ဟုမိန့်တော်မူသည် အတိုင်း၊- ဇာဒုတ်
နှင့် အဗျာသာတို့သည် ဘုရားသခင်၏ သေတ္တာ
တော်ကိုယေရုရှလင်မြို့သို့ပြန်ပို့၍ထိုမြို့၌နေကြ
၃၀ ၏။- ဒါဝိဒ်သည်လည်း ငိုလျက်၊ ဦးခေါင်းကိုဖုံး
လျက်၊ ခြေနင်းကိုချွတ်လျက်၊ သံလွင်တောင်ပေါ်
သို့တက်လေ၏။ နောက်တော်၌လိုက်သောသူအ
ပေါင်းတို့သည်လည်း၊ ဦးခေါင်းကိုဖုံးလျက်ငို
ကြွေးလျက်တက်ကြ၏။
၃၁ အဗရှလုံနှင့်ပေါင်း၍ ပုန်ကန်သောလူစုထဲမှာ
အဟိသောဖေလ လည်း ပါကြောင်းကို ဒါဝိဒ်
သည်ကြားလျှင်၊ အိုထာဝရဘုရား၊ အဟိသော
ဖေလ ပေးသော အကြံကို မိုက်သော အကြံဖြစ်
၃၂ စေတော်မူပါဟုဆုတောင်းလေ၏။- တောင်ပေါ်
သို့ရောက်သော အခါ ဒါဝိဒ်သည် ဘုရားသခင်
ကိုကိုးကွယ်၏။ အာခိမြို့သားဟုရှဲသည်လည်း
အင်္ကျီကိုဆုတ်လျက်၊ ခေါင်းပေါ်မှာမြေမှုန့်ကို
၃၃ တင်လျက်ခရီးဦးကြို ပြုဆဲ့သောငှါလာ၏။- ဒါ
ဝိဒ်ကလည်း၊ သင်သည်ငါနှင့်အတူလိုက်လျှင်
၃၄ ငါ့ကိုနှောင့်ရှက်လိမ့်မည်။- မြို့သို့ပြန်၍အဗရှလုံ
အား၊ အရှင်မင်းကြီး၊ ကျွန်တော် သည် ခမည်း
တော်ထံ၌ကျွန်ခံဘူးသည်နည်းတူ၊ ကိုယ်တော်
ထံ၌ကျွန်ခံပါမည်ဟုလျှောက်လျှင်၊ အဟိသော
ဖေလ ပေးသော အကြံကို ငါ့ဘက်မှာနေ၍ ဖျက်
၃၅ နိုင်လိမ့်မည်။- မြို့တွင်သင်နှင့်အတူ ယဇ်ပုရော
ဟိတ်ဇာဒုတ်နှင့်အဗျာသာတို့သည်ရှိကြသည်
မဟုတ်လော။ သို့ဖြစ်၍၊ နန်းတော်၌ကြားသမျှ
ကိုယဇ်ပုရောဟိတ်တို့အား ပြန်ပြောရမည်။-
၃၆ သူတို့၌ဇာဒုတ်၏သား အဟိမတ်နှင့်အဗျာသာ
၏သားယောနသန်၊ သားနှစ်ယောက်ရှိ၏။ ကြား
နိုင် သမျှကို ထိုသား တို့တွင် ငါ့ထံသို့ ပေး လိုက်
၃၇ ရမည်ဟု မိန့်တော်မူသည် အတိုင်း- ဒါဝိဒ်၏အဆွေ
ခင်ပွန်းဟုရှဲသည် မြို့သို့ ပြန်သွား၏။ အဗ

ရှလုံ သည်လည်း၊ ယေရုရှလင်မြို့သို့ ဝင်လေ၏။

၁၆

၁ ဒါဝိဒ်သည် တောင်ထိပ်ကို အနည်းငယ်လွန်
သော အခါ၊ မေဖိဗောရှက် ၏ ကျွန်ဇိဗ သည်
ကုန်း၌တင်သော မြည်းနှစ်စီးနှင့်တကွ မုန့်လုံးနှစ်
ရာ၊ စပျစ်သီးခြောက်အပြွတ်တရာ၊ သင်္ဘော်သ
ဖန်းသီးမှည့်အပြားတရာ၊ စပျစ်ရည်ဘူးတလုံး
တို့ကိုပေါ်မှာတင်ဆောင်လျက်၊ ခရီးဦးကြိုပြုအံ့
၂ သောငှါလာ၏။— ရှင်ဘုရင်ကလည်း၊ အဘယ်
သို့ပြုခြင်းငှါ ဤဥစ္စာကိုဆောင်ခဲ့သနည်းဟုဇိဗ
အားမေးလျှင်၊ ဇိဗက မြည်းတို့သည်နန်းတော်သား
များစီးဘို့၊ မုန့်နှင့်သစ်သီးတို့သည် လုလင်များ
စားဘို့၊ စပျစ်ရည်သည်လည်းတော၌မောသော
သူများသောက်ဘို့ဖြစ်ပါသည်ဟု လျှောက်၏။—
၃ ရှင်ဘုရင်က လည်း၊ သင့်သခင်၏သားသည် အ
ဘယ်မှာရှိသနည်းဟုမေးလျှင်၊ ဇိဗက ယေရုရှ
လင်မြို့၌နေရစ်ပါ၏၊ ယနေ့မှာ၊ ဣသရေလအမျိုး
သည်ငါ့အဘ၏ နိုင်ငံကိုငါ့အား ပြန်ပေးလိမ့်မည်
၄ ဟုဆိုကြောင်းကိုလျှောက်လေသော်-ရှင်ဘုရင်
က မေဖိဗောရှက်နှင့်ဆိုင်သမျှသော ဥစ္စာသည်
သင့်ဥစ္စာဖြစ်စေဟုဇိဗအားမိန့်တော်မူ၏၊ဇိဗ
ကလည်း၊ အရှင်မင်းကြီး၊ ကျွန်တော်သည်ရှေ့
တော်၌မျက်နှာရပါမည်အကြောင်း၊ ရှိခိုးအသ
နားတော်ခံပါသည်ဟုပြန်လျှောက်လေ၏။
၅ ဒါဝိဒ် မင်းကြီးသည် ဗာဟုရိမ် မြို့သို့ ရောက်
သောအခါ၊ ရှောလု၏အဆွေအမျိုးဂေရသားရှိ
မိအမည်ရှိသော သူသည် ကျိန်ဆဲလျက် ထွက်
၆ လာ၏။— ဒါဝိဒ် မင်းကြီးနှင့် ကျွန်တော်မျိုး အ
ပေါင်းတို့ကိုကျောက်ခဲနှင့်ပစ်လေ၏၊လူများအ
ပေါင်းနှင့်စစ်သူရဲတော် မတ်တော်အပေါင်းတို့သည်
လက်ျာတော်ဘက်၊ လက်ဝဲတော်ဘက်၌ ရှိကြ
၇ ၏။-ရှိမိကျိန်ဆဲသောစကားဟူမူကား၊သွားတဲ့၊
သွားတဲ့၊ လူအသက်ကို သတ်သောအဓမ္မလူ၊—
၈ ရှောလု၏ နိုင်ငံကိုလုယူ၍သူ၏ အဆွေ အမျိုးကို
သတ်သောအပြစ်အလုံးစုံကိုသင့်ခေါင်းပေါ်မှာ
ထာဝရဘုရားသက်ရောက်စေ၍၊ နိုင်ငံတော်ကို
သင်၏ သား အဗရှလုံ လက်၌ အပ်တော် မူပြီ၊
သင်သည်လူအသက်ကိုသတ်သောသူဖြစ်သော
ကြောင့်ကြည့်ပါ၊ အမှုကြီးရောက်လေပြီဟုဆို
၉ ၏။—ဇေရုယာသားအဘိရှဲကလည်း၊ထိုခွေးသေ
ကောင်သည် အရှင်မင်းကြီးကို ကျိန်ဆဲရမည်
လော၊ကျွန်တော်သွား၍သူ၏ဦးခေါင်းကို ဖြတ်
၁၀ ပါရစေဟု နားတော် လျှောက်လျှင်- ရှင်ဘုရင်
က ဇေရုယာသားတို့၊ သင်တို့သည်ငါနှင့်အ
ဘယ်သို့ ဆိုင် သနည်း၊ ထိုသူ သည် ကျိန်ဆဲပါ
စေ၊ဒါဝိဒ်ကိုကျိန်ဆဲလော့ဟုထာဝရဘုရား
မှာထားတော်မူပြီ၊သို့ဖြစ်၍၊သင်သည်အဘယ်
ကြောင့် ဤသို့ပြုသနည်းဟုအဘယ်သူဆိုရမည်
၁၁ နည်းဟူ၍၎င်း- ကြည့်ပါ၊ ငါ့ကိုယ်ထဲက ထွက်
သောငါ့သားရင်းသည် ငါ့အသက်ကို ရှာ၏၊ ထို
ဗင်္ယာမိန်အမျိုးသားသည်ထိုမျှမကအ ခွင့်ရှိလိမ့်
မည်၊သူ့ကိုရှိပါလေစေ၊ ကျိန်ဆဲပါလေစေ၊ထာ
၁၂ ဝရဘုရား မှာထားတော်မူပြီ၊- ထာဝရ ဘုရား
သည်ငါ၏ဒုက္ခကိုကြည့်ရှု၍၊ ယနေ့ ထိုသူကျိန်
ဆဲသည် အတွက် ကောင်းသော အကျိုးကိုပြန်
ပေးကောင်း ပေးတော် မူလိမ့်မည်ဟူ၍၎င်း၊ အ
ဘိရှဲ နှင့် ကျွန် တော်မျိုး အပေါင်းတို့ အား မိန့်
၁၃ တော်မူ၏။-ဒါဝိဒ်သည်နောက်တော်လိုက်သူတို့
နှင့်တကွလမ်း၌ သွားစဉ်တွင်၊ ရှိမိသည် ဒါဝိဒ်
တဖက်တချက်၊ တောင်ခါးပန်းနားမှာ ရှောက်
သွားသဖြင့်၊ကျိန်ဆဲလျက်ကျောက်ခဲနှင့်ပစ်၍၊
၁၄ မြေမှုန့်ကို လည်း ပက်လေ၏။- ရှင်ဘုရင်မှစ၍
နောက်တော်သို့လိုက်သော သူအပေါင်းတို့သည်
မောလျက်၊ ဗာဟုရိမ်မြို့သို့ရောက်၍ အမောအ
ပန်းဖြေကြ၏။
၁၅ အဗရှလုံ နှင့် လူ အပေါင်း တို့သည် ယေရု
ရှလင်မြို့သို့ ရောက်၍ အဟိသောဖေလလည်း ပါ
၁၆ ၏။- ဒါဝိဒ်၏အဆွေခင်ပွန်း အာခိလူ ဟုရှဲသည်
လည်း အဗရှလုံထံသို့ ရောက်လာ၍၊ ရှင်ဘုရင်
အသက် တော် ရှင်စေ သ တည်း၊ ရှင် ဘုရင်အ
သက် တော် ရှင်စေ သ တည်း ဟု ကောင်းကြီး
၁၇ ပေး၏။- အဗရှလုံက လည်း၊ သင်၏ အဆွေ ခင်
ပွန်း၌ ဤသို့ကျေးဇူးပြုသလော၊ သင်၏ အဆွေ
ခင်ပွန်း နှင့် အတူ အဘယ် ကြောင့် မလိုက် သ
၁၈ နည်းဟု ဟုရှဲအားဆိုလျှင်- ဟုရှဲက၊ ထိုသို့မိန့်
တော် မမူပါနှင့်၊ ထာဝရဘုရားမှစ၍ ဤလူများ
နှင့် ဣသရေလ လူများ အပေါင်း တို့သည် ရွေး
ချယ်သောသူထံမှာကျွန်တော်ကျွန်ခံပါမည်၊ ထို
၁၉ သူထံမှာနေပါမည်ဟူ၍၎င်း- တဖန် အဘယ်သူ
ထံ၌ကျွန်ခံရ၏၊ ထိုသူ၏သားထံ၌ကျွန်ခံရသည်
မဟုတ်ပါလော၊ ကျွန်တော်သည်ခမည်းတော်
ထံ၌ကျွန်ခံသည်နည်းတူကိုယ်တော်ထံ၌လည်း
ကျွန်ခံပါမည်ဟူ၍၎င်း၊ အဗရှလုံအားလျှောက်
ဆို၏။

၂၀ အဗရှလုံကလည်း၊ ငါတို့သည်အဘယ်သို့ပြု
ရမည်ကိုအကြံပေးပါဟုအဟိသောဖေလအား
၂၁ ဆိုလျှင်-အဟိသောဖေလကနန်းတော်ကိုစောင့်
စေခြင်းငှါ၊ ခမည်းတော်ထားခဲ့သော ကိုယ်လုပ်
တော်တို့ရှိရာသို့ဝင်တော်မူပါ၊ ခမည်းတော်သည်
ကိုယ်တော်အား စက်ဆုပ် ရွံရှာကြောင်းကို ဣ
သရေလအမျိုးသားအပေါင်းတို့သည်ကြား၍၊
ကိုယ် တော် အက်၌ နေ သော သူ အပေါင်း တို့
သည်ထက်အားကြီးကြပါလိမ့်မည်ဟုလျှောက်
၂၂ သည်အတိုင်း၊-နန်းတော်ပေါ်မှာအဗရှလုံအဖို့
ရှက်နှာကြက်ကို မိုး၍၊ သူသည် ဣသရေလအ
မျိုးသား အပေါင်း တို့ ရှေ့ မှာ၊ ခမည်း တော်၏
၂၃ ကိုယ်လုပ်တော်တို့ရှိရာသို့ဝင်လေ၏၊- ထိုကာ
လ၌ အဟိသောဖေလ ပေးသော အ ကြံ သည်၊
ဘုရားသခင်ထံတော်၌မေးလျှောက်၍ ခံရသော
ဗျာဒိတ်တော်ကဲ့သို့ ဖြစ်၏၊ သူပေးသမျှသောအ
ကြံကိုဒါဝိဒ်နှင့်အဗရှလုံသည်ဗျာဒိတ်တော်ကဲ့
သို့မှတ်တတ်သတည်း။

၁၇

၁ တဖန် အဟိသောဖေလက၊ ကျွန်တော်သည်
လူတသောင်းနှစ်ထောင်တို့ကိုရွေးကောက်ပါရ
စေ၊ ယနေ့ညည့်၌ပင် ကျွန်တော်ထ၍ ဒါဝိဒ်ကို
၂ လိုက် ပါမည်၊- သူသည် မောလျှက် လက်အား
နည်းလျှက်နေစဉ်အခါ၊ ကျွန်တော်တိုက်၍သူ
ကိုထိတ်လန့်စေမည်၊ သူ၌ပါသော လူအပေါင်း
တို့သည်ပြေးကြ၍၊ ရှင်ဘုရင်ကိုသာ ကျွန်တော်
၃ လုပ်ကြံပါမည်၊- လူအပေါင်းတို့ကိုကိုယ်တော်
ထံသို့ဆောင်ခဲ့ပါမည်၊ ကိုယ်တော် ရှာသောသူ
တယောက် တည်း ကို ရလျှင်၊ လူ အပေါင်း တို့
သည် ပြန်လာ ၍ ငြိမ်ဝပ် ကြပါ လိမ့် မည် ဟု
၄ လျှောက် လျှင်- ထိုစကားကို အဗရှလုံ နှင့် ဣသ
ရေလ အမျိုး အသက် ကြီးသူတို့သည် နှစ်သက်
၅ ကြ၏၊- ထိုအခါအဗရှလုံက၊ အာခိလူ ဟုရှဲကို
လည်း ခေါ်ခဲ့၊ ငါတို့သည် သူ၏ စကား ကို နား
၆ ထောင်ကြကုန်အံ့ဟု ဆိုသည်အတိုင်း၊- ဟုရှဲသည်
လာ ၍ အဗရှလုံက၊ အဟိသောဖေလ သည် ဤ
စည်သော အကြံကိုပေးပြီ၊ သူ၏စကားကို နား
ထောင်သင့်သလော၊ သို့မဟုတ်၊ သင်ပြောလော့
၇ ဟု ဆိုလျှင်- ဟုရှဲက အဟိသောဖေလပေးသော
၈ အကြံသည် ယခုကာလ၌မလျော်ပါ၊- ခမည်း
တော်နှင့်သူ၏လူတို့သည် ခွန်အားကြီးသောသူ
ဖြစ်ကြောင်းကိုငှင်၊ တောရှိ ကလေးပါသော ဝက်ဝံ၌ သား
ပေျာက်သော ဝံမ ကဲ့သို့ပြင်းထန်သောစိတ်
ရှိ ကြောင်း ကိုငှင်၊ ကိုယ် တော် သိတော် မူ၏၊
ခမည်းတော်သည်လည်းစစ်သူရဲဖြစ်၍ လူများ
၉ တို့နှင့်အတူ မအိပ်တတ်၊- ယခုမှာသူသည်မြေ
တွင်း တစုံတခု၌ ပုန်းလျှက် နေပါလိမ့်မည်၊ သို့
မဟုတ်၊ အခြားသောအရပ်၌ ပုန်းလျှက် နေပါ
လိမ့်မည်၊ လူအချို့တို့သည်အဦးထဲ၍သေလျှင်
ထိုသိတင်းကိုကြားသောသူက၊ အဗရှလုံနောက်
သို့လိုက်သောသူတို့သည် ဆုံးရှုံးကြပြီဟုကြား
၁၀ ပြောကြပါလိမ့်မည်၊- ထိုအခါ ရဲရင့်သောသူ၊
ခြင်သေ့ နှလုံးကဲ့သို့ နှလုံး ရှိသော သူ သည်
စိတ်ပျက် ပါလိမ့်မည်၊ ခမည်း တော် သည် ခွန်
အား ကြီးသောသူ ဖြစ်ကြောင်းကို ငှင်၊ သူ၌ ပါ
သောသူတို့သည် ရဲရင့်ခြင်းသတ္တိရှိသောသူဖြစ်
ကြောင်းကိုငှင်၊ ဣသရေလအမျိုးသားအပေါင်း
၁၁ တို့ သည် သိ ကြ ပါ ၏၊- သို့ဖြစ်၍၊ ကျွန်တော်
သည်အကြံပေးပါမည်၊ ဒန်မြို့မှစ၍ဗေရရှေဘ
မြို့တိုင်အောင်၊ ဣသရေလအမျိုးသားအပေါင်း
တို့သည်အရေအတွက်အား၊ ပင်လယ်သဲလုံး
နှင့် အမျှ ကိုယ်တော် ထံ၌ စည်းဝေး၍၊ ကိုယ်
၁၂ တော်တိုင် စစ်ချီတော် မူရမည်၊- ထိုသို့ ခမည်း
တော်ကို တွေ့သော အရပ် တစုံ တခု၌ သူထံသို့
ရောက်လျှင်၊ မြေပေါ်မှာ နှင်းကျသကဲ့သို့ သူကို
သွမ်းမိုး၍၊ သူနှင့်သူ၌ရှိသောသူ တယောက်မျှ
၁၃ မကျန် ကြွင်းရ၊- ငှင်နည်း၊ ခမည်းတော်သည်
မြို့ တမြို့ထဲသို့ဝင်လျှင်၊ ဣသရေလ အမျိုးသား
အပေါင်း တို့သည် ကြိုးများကို ယူခဲ့၍၊ ထို မြို့၌
ကျောက်စရစ်တခုကိုမျှ မကျန်စေခြင်းငှါ၊ မြစ်
၁၄ ထဲသို့ဆွဲချရကြမည်ဟုလျှောက်လေသော်- အ
ဗရှလုံနှင့် ဣသရေလ အမျိုးသား အပေါင်းတို့
က၊ အာခိလူ ဟုရှဲ ပေးသော အကြံသည် အဟိ
သောဖေလပေးသောအကြံထက်သာ၍ကောင်း
သည်ဟု ပြောဆိုကြ၏၊ အကြောင်းမူကား၊ထာ
ဝရဘုရားသည်အဗရှလုံ၌ဘေး ရောက်စေခြင်း
ငှါ၊ အဟိသောဖေလ ပေးသော အကြံ ကောင်း
ကိုဖျက်စေမည်အကြောင်းစီရင်တော်မူ၏။
၁၅ ထိုအခါဟုရှဲသည် ယဇ်ပုရောဟိတ် ဇာဒုတ်
နှင့် အဗျာသာတို့အား၊ အဟိသောဖေလ သည်
ဤမည်သောအကြံကိုအဗရှလုံနှင့်ဣသရေလအ
မျိုးအသက်ကြီးသူတို့အားပေးပြီ၊ ကျွန်ုပ်သည်
၁၆ လည်း ဤမည်သော အကြံကိုပေးပြီ။- သို့ဖြစ်၍
ဒါဝိဒ်ထံသို့ အလျင်အမြန် စေလွှတ်၍၊ ယနေ့ည

မှာသောထွင်ပြင်၌မနေပါနှင့်။ အလျင်အမြန်ကူး
သွားပါ။ သို့မဟုတ်လျှင်၊ ရှင်ဘုရင် နှင့် လူ အ
ပေါင်းတို့သည် ဆုံးရှုံးခြင်းသို့ ရောက်ကြ လိမ့်
မည်ဟုကြားလျှောက်မည်အကြောင်းမှာလိုက်
၁၇ သဖြင့်- ယောနသန်နှင့် အဟိမတ်သည်မြို့ထဲ
သို့ဝင်လျှင်သူတပါးမြင်မည် စိုးသောကြောင့်၊
အင်ရောဂေလ ရွာနားမှာ နေရ စည် တွင်၊ မိန်း
မကလေးတယောက်သွား၍ပြောသည်အတိုင်း၊
သူတို့သည်ဒါဝိဒ်မင်းကြီးထံသို့သွား၍လျှောက်
၁၈ ကြ၏။- သို့ရာတွင်၊လူကလေးတယောက်သည်
ထိုသူ တို့ကိုမြင်၍ အဗရှလုံအား လျှောက် လေ
၏၊ သူတို့သည်အလျင်အမြန် သွား၍၊ ဗာဟုရိမ်
မြို့တွင် အိမ်တအိမ်သို့ဝင်သဖြင့်၊ ထိုအိမ် ဝင်း
၁၉ ထဲမှာရှိသောရေတွင်းသို့ဆင်း၍- မိန်းမသည်ရေ
တွင်းဝကို ဖုံး၊ပြီးမှ၊ ဆန်ကို လှန်း၍ ထား သော
၂၀ ကြောင့် ထိုအမှုသည် မထင်ရှား။- အဗရှလုံ၏
ကျွန် တို့သည် ထိုအိမ် သို့ ရောက်၍၊ အဟိမတ်
နှင့် ယောနသန် တို့သည် အဘယ်မှာ ရှိ ဘနည်း
ဟု မိန်းမအားမေးလျှင်၊ မိန်းမက ချောင်း တဖက်သို့
ကူးကြပြီဟုပြောသဖြင့်၊သူတို့သည်ရှာ၍မတွေ့
သောအခါ ယေရုရှလင် မြို့သို့ ပြန်သွား ကြ၏။-
၂၁ ပြန်သွားသောနောက်၊အဟိမတ်နှင့်ယောနသန်
သည်ရေတွင်းထဲကတက်၍ဒါဝိဒ်မင်းကြီးထံသို့
သွားပြီးလျှင်၊မြစ်တဖက်သို့အလျင်အမြန်ထ၍
ကြွ တော်မူပါ။ အဟိသောဖေလ သည် ကိုယ်
တော်တဖက်၌ ဤမည်သောအကြံကိုပေးပါပြီဟု
၂၂ လျှောက်သော်၊- ဒါဝိဒ်နှင့် လူ အပေါင်းတို့သည်
ထ၍ ယော်ဒန် မြစ် ကို ကူး ကြ၏။ မိုဃ်း လင်း
သောအခါမကူးသောသူတယောက်မျှမရှိ။
၂၃ အဟိသောဖေလသည်မိမိပေးသောအကြံသို့
မ လိုက် ကြ သည် အကြောင်း ကို သိ မြင် သော
အခါ၊ မြည်းကိုကုန်းနှီးတင်စေပြီးလျှင် ထ၍မိမိနေ
ရင်းမြို့၊မိမိအိမ်သို့သွားသဖြင့်၊ အိမ်မှု အိမ်ရေး
များကိုစီရင်ပြီးမှ၊ ထည်ကြိုးတပ်၍ သေလေ၏။
ထိုးဘေးတို့သင်းချိုင်း၌သင်းဂြိုဟ်ကြ၏။
၂၄ ဒါဝိဒ်သည်မဟာနိမ်မြို့သို့ရောက်လေ၏။ အ
ဗရှလုံသည်လည်း၊ ဣသရေလလူ အပေါင်းတို့
၂၅ နှင့်အတူယော်ဒန်မြစ်ကိုကူးလေ၏။- အဗရှလုံ
သည် ယွာဘ အရာ၌ အာမသကို
ခန့်ထား၏။ အာမသကား၊ယွာဘ၏အမိဇေရုယာ
၏ညီမ နာဟတ်သမီး အဘိဂဲလနှင့် စုံဖက် သော
ဣရှမေလအမျိုး၊ယေသာ၏သားဖြစ်သတည်း။-
၂၆ ဣသရေလ အမျိုးသား တို့နှင့် အဗရှလုံသည် ဂိ
လဒ်ပြည်၌တပ်ချကြ၏။
၂၇ ဒါဝိဒ်သည်မဟာနိမ်မြို့သို့ရောက်သောအခါ၊
အမ္မုန်ပြည် ရဗ္ဗာမြို့သား နာဟတ်၏သား ရှောဗိ၊
လောဒေဗာမြို့သား အမျေလ၏သား မာခိရ၊
ဂိလဒ်အမျိုး ရောဂေလိမ်မြို့သား ဗာဇိလဲတို့က-
၂၈ ထိုလူတို့သည် တောၡ ရေငတ် မွတ်သိပ် ပင်
ပန်းလျက်နေရပါသည် တကားဟု ဆို၍၊ ဒါဝိဒ်
နှင့်သူ၏လူများစားစရာဘို့ ဂျုံဆန်၊ မုယောဆန်၊
၂၉ ရွှံ့ညက်၊ ပေါက်ပေါက်မျိုး၊ ပဲမျိုး၊- မှုန့်ရည်၊
နို့တမ်း၊ သိုး၊ ဒိန်ခဲနှင့်အကွဲအိပ်ရာ၊ ထင်ပန်း၊
မြေခွက်များကိုဆောင်ခဲ့ကြ၏။

၁၈

၁ ဒါဝိဒ်သည်မိမိနှင့်ပါသော လူတို့ကိုရေတွက်၍
၂ တထောင်အုပ်၊ တရာအုပ်တို့ကိုခန့်ထား၏။-လူ
သုံးစု တစုကို ယွာဘ၌ ၄င်း၊ တစုကို ဇေရုယာ
သား ယွာဘညီ အဘိရှဲ၌ ၄င်း၊ တစုကို ဂိတ္တိလူ
ဣတ္တဲ၌၄င်းအပ်၍၊ငါကိုယ်တိုင်ရှိသွားမည်ဟုလူ
၃ များတို့အားမိန့်တော်မူ၏။-လူများတို့ကထင်း၊
ကိုယ်တိုင်ကြွတော်မမူပါနှင့်။ ကျွန်တော်တို့ပြေး
သော်လည်း၊ သူတို့သည်အမှုမထားကြပါ။ ကျွန်
တော်တို့တဝက်သေသော်လည်း၊ သူတို့သည်အ
မှုမထားကြပါ။ ကိုယ်တော် မူကား၊ ကျွန်တော်
တို့တသောင်းထက် မြတ်တော်မူ၏။ သို့ဖြစ်၍၊
ကျွန်တော်တို့ကိုမြို့ထဲကမစတော်မူလျှင်၊ သာ၍
၄ ကောင်းပါလိမ့်မည်ဟု လျှောက် ကြ၏။- ရှင်
ဘုရင်ကလည်း၊ ငါသည်သင်တို့အလိုသို့လိုက်
မည်ဟုမိန့်တော်မူ၍ တံခါးဝနားမှာရပ်တော်မူ
လျှင်၊လူအပေါင်းတို့သည်တရာတပ်၊တထောင်
၅ တပ်အားဖြင့်ရှိသွားကြ၏။-ရှင်ဘုရင်ကလည်း၊
ငါ့ကို ထောက်၍ ငါ့ သား အဗရှလုံ ကို
ဖြည်းညှင်းစွာ ပြုကြလော့ဟုယွာဘ၊ အဘိရှဲ၊
ဣတ္တဲတို့ကို မှာထားတော်မူ၏။ ထိုသို့ရှင်ဘုရင်
သည် အဗရှလုံအတွက်၊ ဗိုလ်မင်းအပေါင်းတို့
ကို မှာထားတော်မူသော အခါ၊ လူအပေါင်းတို့
၆ သည်ကြား၏။- ထိုသို့လူများတို့သည် ဣသ
ရေလ လူတို့ကို စစ်တိုက် အံ့သော ငှါ၊ မြို့ပြင်သို့
၇ ထွက်၍ ဧဖရိမ်တော၌စစ်ပြိုင်ကြ၏။- ဣသရေ
လလူတို့သည် ဒါဝိဒ်၏ကျွန်တို့ရှေ့မှာရှုံး၍၊ ထိုနေ့
ရှင်းတွင် ကြီးစွာသောလုပ်ကြံခြင်း အားဖြင့်လူ
၈ နှစ်သောင်း သေ ကြ၏။- မြေတပြင်လုံး အနှံ့အ
ပြား တိုက်ကြသဖြင့်၊ ထိုနေ့၌ လူကျွင်းထက်၍

ဘေးသည် ထက်တော၌ ဆုံးရှုံးသော သူ သာ၍
၉ များကြ၏။- ဒါဝိဒ်၏ကျွန်တို့သည် အဗရှလုံ ကို
တွေ့ကြ၏။ သူသည် မြည်းကို စီးလျက်ပင် မြည်းသည်
ကြီးသော သပိတ်ပင်အကိုင်းအခက်အောက်သို့
ဝင်၍၊ အဗရှလုံ၏ ခေါင်းသည် သပိတ်ပင်၌ ငြိ
သဖြင့်၊ မိုဃ်းနှင့် မြေကြီး စပ်ကြားမှာ တွဲလွဲတွဲ
လျက်နေ၍၊ မြည်းသည်အလို အလျောက်သွားလေ
၁၀ ၏။- မြင်သောသူတယောက်သည်ယွာဘထံသို့
သွား၍၊ သပိတ်ပင်၌ အဗရှလုံ တွဲနေ သည်ကို
၁၁ ကျွန်တော်မြင်ခဲ့သည်ဟုကြားပြောလျှင်- ယွာ
ဘက၊ သင်သည် မြင်ခဲ့သည် မှန်လျှင်၊ အဘယ်
ကြောင့်သူကိုထိုး၍မြေကြီးပေါ်သို့မချခဲ့သနည်း။
ထိုသို့ ပြုလျှင် ငွေ အကျပ် တဆယ်နှင့် ခါးစည်း
၁၂ ကို ငါပေးပြီဟု ပြောဆိုသော်- ထိုသူက၊ ကျွန်
တော်သည်ကိုယ်လက်၌ငွေအစွက်တဆယ်ကို
ဝင်ခံရသော်လည်း၊ ရှင်ဘုရင်၏သားကိုမပြုနိုင်
ပါ။ အကြောင်းမူကား၊ ကျွန်တော်တို့ ကြားသည်
အတိုင်း ရှင်ဘုရင်က၊ ငါ့မျက်နှာကို ထောက်၍
ငါ့သား အဗရှလုံကို စောင့်မကြလော့ဟု၊ ကိုယ်
တော် နှင့် အဘိရှဲ၊ ဣတ္တဲတို့ကို မှာထားတော်မူ
၁၃ ပြီ။- ကျွန်တော်ပြုမိလျှင်၊ ကိုယ်ကိုလှည့်စား၍
ကိုယ်အသက် ရှုံးပါပြီ။ ရှင်ဘုရင် မသိသောအ
မှုတစုံတခုမျှမရှိ။ ကိုယ်တော်သည်လည်း ကျွန်
တော်တဘက်၌ နေပါလိမ့်မည်ဟုပြောဆိုသော်-
၁၄ ယွာဘက၊ သင်နှင့်အတူ ငါမနေအားဟုဆိုလျက်
လှံထည် သုံးစင်းကို ကိုင်ယူ၍၊ သပိတ်ပင် အ
ထယ်၌ အသက် ရှင်လျက် ရှိသော အဗရှလုံ၏
၁၅ နှလုံးကိုထုတ်ချင်းခပ် ထိုးလေ၏။- ထက်နက်
ဆောင် လုလင် တကျိပ် တို့ သည် လည်း ဝိုင်း၍
၁၆ အဗရှလုံကို အသေသတ်ကြ၏။- ယွာဘသည်
လည်းတံပိုးမှုတ်၍ လူတို့ကိုဆီးတားသဖြင့်၊ ဣ
၁၇ သရေလလူတို့ကိုလိုက်ရာမှပြန်လာကြ၏။- အဗ
ရှလုံကို လည်းယူ၍၊ တော၌နက်သောမြေတွင်း
ထဲသို့ ချပြီးမှ ကျောက်ပုံကြီးကို ပုံထားကြ၏။ ဣ
သရေလ လူ အပေါင်းတို့သည် အသီးအသီး မိမိ
၁၈ တို့အိမ်သို့ပြေးကြ၏။- အဗရှလုံသည် အသက်
ရှင်စဉ်အခါ ငါ၏နာမထည်မပျောက်၊ အမြဲတည်
စည်အကြောင်း၊ သားမရှိဟု ဆို လျက် ရှင်ဘုရင်
ချိုင့်တွင်ကိုယ်အမှတ်ကျောက် တိုင်ကို စိုက်၍၊ မိမိ
နာမဖြင့်သမုတ်ထားကြောင့်၊ ယနေ့တိုင်အောင်
အဗရှလုံ၏အောင်တိုင်ဟူ၍ ခေါ်သတည်း။
၁၉ ထိုအခါ ဇာဒုတ်၏သား အဟိမတ်က၊ ထာဝရ
ဘုရားသည် ရှင်ဘုရင်၏ ရန်သူတို့ကို အပြစ်ပေး
လျှောက် စီရင်တော်မူကြောင်းကို ကျွန်တော်
ပြေး၍ သိတင်းကြားလျှောက်ပါရစေဟု အခွင့်
၂၀ တောင်းလျှင်- ယွာဘက၊ ယနေ့ သင်သည် သိ
တင်း မကြား မလျှောက်ရ။ အခြားသော နေ့၌
ကြား လျှောက်ရမည်။ ရှင်ဘုရင်၏ သားတော်
သေသော ကြောင့်၊ ယနေ့ သင်သည် သိတင်းမ
၂၁ ကြားမလျှောက်ရဟုဆိုပြီးမှ- ကုရှိအားသင်မြင်
သမျှကို သွား၍ ရှင်ဘုရင်အား ကြားလျှောက်
လော့ဟုဆိုသည်အတိုင်း၊ ကုရှိသည်ယွာဘအား
၂၂ ဦးညွှတ်၍ ပြေးလေ၏။- တဖန်ဇာဒုတ်သားအဟိ
မတ် က၊ သို့ သော် လည်း၊ ကျွန်တော် သည်
ကုရှိ နောက်မှာ ပြေးပါရစေဟု၊ အခွင့် တောင်း
ပြန်လျှင်၊ ယွာဘက ငါ့သား၊ ဝမ်းမြောက်စရာသိ
တင်းမထုတ်သည်ဖြစ်၍၊ အဘယ်ကြောင့်ပြေး
၂၃ သွားချင် သနည်းဟု ဆိုသော်လည်း- ပြေးပါရ
စေဟု တဖန် အခွင့် တောင်းသောကြောင့်ပြေး
လော့ဟုအခွင့်ပေး၏။ ထိုအခါအဟိမတ် သည်
၂၄ လွင်ပြင်လမ်း၌ ပြေး၍ကုရှိကိုလွန်လေ၏။- ဒါ
ဝိဒ်သည်မြို့တံခါးနှစ်ထပ်ကြားမှာထိုင်၍နေ၏။
ကင်းစောင့်တယောက်သည်မြို့ရိုးတံခါးအပေါ်
ပြအိုးမိုးအောက်သို့တက်၍မျှော်ကြည့်သဖြင့်၊
လူတယောက်တည်းပြေးလာသည်ကိုမြင်သော
၂၅ အခါ- ရှင်ဘုရင်အားဟစ်၍ လျှောက် လေ၏။
ရှင်ဘုရင်ကလည်း၊ တယောက်တည်းဖြစ်လျှင်
သိတင်း ပါလိမ့်မည်ဟု အမိန့်ရှိ၏။ ထိုသူသည်
၂၆ ပြေးလာ၍ အနီးသို့ ရောက်သော အခါ- ကင်း
စောင့်သည်လည်းအခြားသောသူပြေးလာသည်
ကိုမြင်၍၊ အခြား သောသူ တယောက် တည်း
ပြေးလာပါသည်ဟုတံခါးသို့ဟစ်၍လျှောက်လျှင်၊
ရှင်ဘုရင်က၊ ထိုသူ၌လည်းသိတင်းပါလိမ့်မည်
၂၇ ဟု အမိန့်ရှိ၏။- ကင်းစောင့်ကလည်း၊ ရှေ့သွား
သောသူ၏ ပြေးခြင်းသည် ဇာဒုတ် သား အဟိ
မတ် ပြေးခြင်းနှင့်တူသည်ကို ကျွန်တော်ထင်ပါ
သည်ဟု လျှောက် သော်၊ ရှင်ဘုရင်က သူသည်
လူကောင်းဖြစ်၏။ ကောင်းသောသိတင်းပါလိမ့်
၂၈ မည်ဟု အမိန့်ရှိပြန်၏။- အဟိမတ် က လည်း
ချမ်းသာရပါ၏ ဟုဟစ်လျက်ရှင်ဘုရင်ရှေ့၊ မြေ
ပေါ်မှာ ပြပ်ဝပ်လျက်အရှင်မင်းကြီးကို ပုန်ကန်
သော လူတို့ကို အပ်တော် မူသော ကိုယ် တော်၏
ဘုရားသခင်ထာဝရဘုရားသည်မင်္ဂလာရှိတော်
၂၉ မူစေသတည်းဟုလျှောက်လေ၏။- ရှင်ဘုရင်က

ထည်း၊ သေား၊ အဗရှလုံသည်ဘေးလွတ်၏လော
ဟု မေး တော် မူ လျှင်၊ အဟိမတ်က၊ အရှင် မင်း
ကြီး၏ ကျွန်ယွာဘသည် ကိုယ်တော်ကျွန်ကိုစေ
လွှတ်သောအခါရုန်းရင်းခတ်ခြင်းအမှုကိုကျွန်
တော် မြင်သော် လည်း၊ သေချာ စွာ မသိ ရပါဟု
၃၀ လျှောက်သော်- ရှင်ဘုရင်က၊ ဤအနားမှာ ရှော
၍နေလော့ဟုမိန့်တော်မူသည်အတိုင်း၊သူသည်
၃၁ ရှော၍ နေလေ၏။- တဖန် ကုရှိ ရောက်လာ၍ အ
ရှင်မင်းကြီး၊သိတင်းပါပါ၏။ကိုယ်တော်ကိုပုန်
ကန်သောသူအပေါင်းတို့ကိုထာဝရဘုရားသည်
ထိုသူတို့၏ ကပြစ်အလျောက် ယနေ့ စီရင်တော်
၃၂ မူပြီဟုလျှောက်လျှင်- ရှင်ဘုရင်က၊ သေားအဗ
ရှလုံ သည် ဘေး လွတ်၏ လော ဟု မေး တော်မူ
သော်၊ကုရှိကအရှင်မင်းကြီး၏ရန်သူများ၊ကိုယ်
တော်ကိုညှဉ်းဆဲခြင်းငှါ ပုန်ကန်သောသူများ၊
အပေါင်းတို့သည် ထိုလုလင်ကဲ့သို့ ဖြစ်ကြပါစေ
၃၃ သောဟု ပြန်လျှောက် လေ၏။- ရှင်ဘုရင်သည်
အလွန် ကြင်နာသော စိတ်ရှိသဖြင့်၊ မြို့တံခါးအ
ပေါ်၌ရှိသောတဲသို့တက်၍တက်စဉ်တွင်၊အိုင
သား၊အဗရှလုံ၊ သေား၊ သေားအဗရှလုံ၊ သင့်
ကိုယ်စားငါမသေပါလေတကား၊အိုအဗရှလုံ၊
သေား၊သေားဟုငိုကြွေးလေ၏။

၁၉

၁ ရှင်ဘုရင်သည်အဗရှလုံကြောင့်ငိုကြွေးမြည်
တမ်းတော် မူသည်ဟု ယွာဘအား ကြား ပြော
၂ လေ၏။- ထိုနေ့၌အောင်ပွဲသည် လူအပေါင်းတို့
တွင် ဝမ်းနည်းစရာ အကြောင်းဖြစ်ပြန်၏။ ရှင်
ဘုရင်သည်သားတော်ကြောင့်စိတ်ကြင်နာတော်
မူသည်ကိုလူအပေါင်းတို့သည်ထိုနေ့၌ကြား၍၊-
၃ စစ်တိုက်ရာမှပြေးသောသူတို့သည်ရှက်၍တိတ်
ဆိတ်စွာပြေးတတ်သကဲ့သို့ မြို့ထဲသို့တိတ်ဆိတ်
စွာပြေးဝင်ကြ၏။- ရှင်ဘုရင်သည်လည်းမျက်
နှာကိုဖုံး၍၊ အိုသား၊ အဗရှလုံ၊ အိုအဗရှလုံ၊
သေား၊ သေား၊ ဟု ကြီး သော အသံနှင့် ငိုကြွေး
၅ တော်မူ၏။- ယွာဘသည် ရှင်ဘုရင်ထံ၊ အိမ်ထဲ
သို့ဝင်၍ကိုယ်တော်၏ အသက်မှစ၍သားတော်
သမီးတော်၊ မိဖုရား မောင်းမမိဿံ တို့၏ အသက်
ကိုကယ်တင်သောကိုယ်တော်ကျွန်တို့ကိုယနေ့
၆ အရှက် ကွဲစေ တော်မူပြီ။- ရန်သူတို့ကို ချစ်၍အ
ဆွေ ခင်ပွန်းတို့ကို မုန်းတော် မူ၏။ မှူးမတ်များ၊
ကျွန်များတို့ကို ပမာဏပြုတော်မမူကြောင်းကို
ယနေ့ ထင်ရှားစွာ ပြတော်မူပြီ။ အဗရှလုံသည်
အသက်ရှင်၍ ကျွန်တော်ရို့၊အပေါင်းတို့သည်
သေနေသလျှင် အားရတော် မူလိမ့်မည်ဟု၊ ထ
၇ နေ့ ကျွန်တော် သိမြင် ပါ၏။- ယခုမှာ ထတော်မူ
ပါ။ကြွ၍ကိုယ်တော်ကျွန်တို့အား နှစ်သိမ့်သော
စကားကိုပြောတော်မူပါ။ ကြွတော်မမူလျှင်၊ယ
နေ့ညမှာအထံတော်၌ လူတယောက်မျှမနေပါ။
ထိုအမှုသည်ငယ်သော အရွယ်မှစ၍ ယခုတိုင်
အောင် ကိုယ်တော်၌ ဖြစ်လေ သမျှသော အမှု
ထက်သာ၍ ဆိုးပါလိမ့်မည်ဟု၊ ထာဝရဘုရား
ကိုတိုင်တည်၍၊ ကျွန်တော် ကျိန် ဆိုပါသည်ဟု
၈ လျှောက်သော်- ရှင်ဘုရင်သည်ထ၍တံခါးဝ၌
ထိုင် တော်မူ၏။ ရှင် ဘုရင်သည် တံခါးဝ၌ ထိုင်
တော်မူသည်ကိုလူအပေါင်းတို့သည် ကြားသော
အခါအထံတော်သို့စုညီးကပ်ကြ၏။ ဣသရေလ
လူများမူကား၊မိမိတို့နေရာသို့ပြေးသွားကြပြီ။
၉ ထိုနောက်၊ဣသရေလအမျိုးအနွယ်အပေါင်း
တို့က၊ ရှင်ဘုရင်သည်မိမိတို့လူအစရှိသောရန်
သူတို့ထက်မှငါတို့ကိုကယ်နှုတ်တော်မူပြီ။ယခု
မှာ အဗရှလုံကြောင့် နိုင်ငံ တော်မှ ထွက် ပြေး
၁၀ တော်မူရ၏။- ငါတို့ဘိသိတ်ပေး၍ မြှောက်ထား
သော အဗရှလုံသည် စစ်တိုက် ပွဲ၌သေပြီ။ ယခု
မှာ ရှင်ဘုရင်ကို တဖန်ဆောင် ခဲ့ရမည်ဟု မဆို။
အဘယ်ကြောင့် တိတ်ဆိတ်စွာ နေကြသနည်း
၁၁ ဟုအချင်းချင်းအပြစ်တင်ကြ၏။- ဒါဝိဒ်မင်းကြီး
သည်လည်း၊ယဇ်ပုရောဟိတ်ဇာဒုတ်နှင့်အဗျာ
သာ ထံသို့ လူကို စေလွှတ်၍၊ ယုဒ အမျိုး အ
သက်ကြီးသူတို့ထံသို့သွား၍ ပြောရမည်ကား၊
ရှင်ဘုရင်ကို နန်းတော်သို့ ပြန်ပို့ရမည် အမှုမှာ
သင်တို့သည် အဘယ်ကြောင့် နောက်ကျကြသ
နည်း။ ရှင်ဘုရင်သည် စံနန်းတော်၌နေစဉ်အခါ၊
ဣသရေလ အမျိုးသား အပေါင်းတို့ ပြောသော
၁၂ သောစကားကိုကြားတော်မူပြီ။- သင်တို့သည်
ညီအစ်ကို၊ငအမျိုး၊ ငအသားဖြစ်၍၊ရှင်ဘုရင်
ကိုပြန်ပို့ရမည် အမှုမှာအဘယ်ကြောင့် နောက်
၁၃ ကျကြသနည်း ဟု၍၎င်- အာမသအားလည်း
သင်သည် ငအသား၊ ငအရိုးတို့အဝင် ဖြစ်သည်
မဟုတ်လော။သင်သည်ငရှေ့မှာယွာဘ၏ကိုယ်
စား၊အစဉ် ဗိုလ်ချုပ်မင်း မဖြစ်လျှင်၊ ထိုမျှမက
ဘုရားသခင်သည်ငါ့၌ပြုတော်မူစေသတည်းဟု
၁၄ ၍၎င် ပြောကြလော့ဟု မှာလိုက်တော်မူ၏။- ထို
သို့ယုဒအမျိုးသားအပေါင်းတို့ကိုတညီတညွတ်
တည်းနှစ်လုံးညွတ်စေတော် မူသဖြင့်၊ထိုသူတို့က၊

ကိုယ်တော်ကျွန် အပေါင်း၊ ထိုသူ၌ အကျွ ကိုယ်
တော်ထိုင်ပြန်လာတော်မူပါဟု၊ ရှင်ဘုရင်အား
၁၇ လျှောက်ကြ၏။-ထိုအခါရှင်ဘုရင်သည်ပြန်
၍ ယော်ဒန်မြစ်သို့ရောက်တော်မူ၏။ ယုဒအမျိုး
သည်ရှင်ဘုရင်ကိုခရီးဦးကြိုပြု၍၊ ယော်ဒန်မြစ်
တစ်ဘက်သို့ပို့ခြင်းငှါဂိလဂါလမြို့သို့သွားကြ၏။
၁၈ ဗင်္ယာမိန်အမျိုးဖြစ်သော ဗာဟုရိမ်မြို့သား၊
ဂေရ၏သား၊ ရှိမိသည် ယုဒအမျိုးသားတို့နှင့်အ
တူ၊ ဒါဝိဒ်မင်းကြီးကို ခရီးဦးကြိုပြုခြင်းငှါ အလျင်
၁၉ အမြန် လိုက်လာ၏။- သူနှင့်အတူ ဗင်္ယာမိန်အ
မျိုးသားတထောင်၊ ရှောလုအဆွေအမျိုး၏ကျွန်
ဇိဗနှင့်သူ၏သား တကျိပ်ငါးယောက်၊ ကျွန်နှစ်
ဆယ်တို့သည်ထည်းလိုက်လာ၍၊ ရှင်ဘုရင်ရှေ့
၂၀ တော်၌ ယော်ဒန်မြစ်ကို ကူးကြ၏။- ကုဗ္ဗိုလှေ
သည်နန်းတော်သားများကိုပို့ခြင်းငှါ၎င်း၊ အလို
တော်ကိုဆောင်ခြင်းငှါ၎င်း သွားလာလျက်ရှိ၏။
ယော်ဒန်မြစ်ကို ကူးတော်မူသော အခါ ဂေရ၏
၂၁ သားရှိမိသည်ရှေ့တော်၌ပြပ်ဝပ်၍- ကျွန်တော်
အရှင်သည်ကျွန်တော်ကိုအပြစ်ပေးတော်မမူပါ
နှင့်။ အရှင်မင်းကြီးသည်ယေရုရှလင်မြို့မှထွက်
တော်မူသောနေ့၌၊ ကိုယ်တော်ကျွန်သည် ဖွန်
ကျူးလွန်ပြုမိသောအမှုကို မှတ်တော်မမူပါနှင့်။
၂၂ နှလုံးသွင်းတော်မမူပါနှင့်။-ကိုယ်တော်ကျွန်
သည်ပြစ်မှားမိသည် ကိုကိုယ်တော်ကျွန်သိပါ
၏။ သို့သော်လည်း၊ ယောသပ် အမျိုးသား အ
ပေါင်းတို့ထံရင်၊ ကျွန်တော် သည် ယနေ့အရှင်
မင်းကြီးကို ခရီး ဦးကြို ပြု ခြင်း ငှါ လာပါပြီဟု
၂၃ လျှောက်လေ၏။- ဇေရုယာ သား အဘိရှဲက
ထည်း၊ ရှိမိသည် ထာဝရဘုရား အခွင့်နှင့်
ဘိသိတ်ခံသောအရှင်ကိုကျိန်ဆဲသောကြောင့်
အသေသတ်ခြင်းကိုခံရမည်မဟုတ်လောဟုဆို
၂၄ သော်- ဒါဝိဒ်က၊ အိုဇေရုယာ သားတို့၊ သင်တို့
သည်ယနေ့ရန်သူလုပ်မည်အကြောင်း၊ ငါနှင့်
အဘယ်သို့ဆိုင်ကြသနည်း။ ဣသရေလအမျိုး
သားတစုံ တယောက်သည် ယနေ့ အသေသတ်
ခြင်းကို ခံရမည်လော၊ ငါသည်ယနေ့ဣသရေ
လ ရှင်ဘုရင် ဖြစ် သည် ကို ငါ သိ သည် မဟုတ်
၂၅ လော ဟု မိန့် တော် မူ၍- ရှိမိ အား လည်း၊ သင်
သည်အသေသတ်ခြင်းကိုမခံရဟုကျိန်ဆိုတော်
မူ၏။
၂၆ ရှောလု၏သားမေဖိဗောရှက်သည်လည်းရှင်
ဘုရင်ကိုခရီးဦးကြို ပြုခြင်းငှါလာ၏။ ရှင်ဘုရင်
ထွက်သောနေ့မှစ၍ငြိမ်ဝပ်စွာပြန်လာတော်မ
မူမှီတိုင်အောင်၊ သူသည်ခြေထိုကိုမပြုရ၊ နုတ်ဆိတ်
၂၇ ကိုမပွတ်ဆင်၊ အဝတ်ကို မလျှော်ဘဲနေပြီး- ရှင်
ဘုရင်ကိုခရီးဦးကြိုပြုခြင်းငှါယေရုရှလင်မြို့သို့
ရောက် လာသော အခါ၊ ရှင်ဘုရင်က မေဖိဗော
ရှက်၊ ငါနှင့်အတူ အဘယ် ကြောင့် မလိုက်သ
၂၈ နည်းဟုမေးတော်မူလျှင်-အရှင်မင်းကြီး၊ ကိုယ်
တော် ကျွန်သည် ခြေဆွံ့ သော ကြောင့် မြည်းစီး၍၊
ကိုယ် တော် ထံသို့ သွားခြင်းငှါ မြည်းကို ကုန်းနှီး
တင်မည်ဟုကြံစည်အခါ၊ ကျွန်တော်ကျွန်သည်
၂၉ ကျွန်တော်ကိုလှည့်စားပါ၏။-အရှင်မင်းကြီးထံ
တော်၌ကိုယ်တော်ကျွန်ကိုကုန်းတိုက်ပါပြီ။ သို့ရာ
တွင်၊ အရှင်မင်းကြီးသည်ဘုရားသခင်၏ ကောင်း
ကင် တမန် ကဲ့သို့ ဖြစ် တော် မူ၏။ စိတ် တော် ရှိ
၃၀ သည် အတိုင်းပြုတော်မူပါ။- ကျွန်တော်အဆွေ
အမျိုးအပေါင်းတို့သည်အရှင်မင်းကြီး ရှေ့တော်
မှာ၊ လူသေ ဖြစ် ကြ သော်လည်း၊ စားပွဲတော်၌
စား သော သူ တို့ နှင့် အ တူ၊ ကိုယ် တော် ကျွန်
ကို နေရာ ပေး တော် မူပြီ။ သို့ဖြစ်၍၊ ရှင် ဘုရင်
ထံတော်၌ ကျွန်တော် မြည်တမ်း ရသောအခွင့်
သည် အဘယ်သို့ ရှိပါသနည်းဟု ပြန်လျှောက်
၃၁ သော်-ရှင်ဘုရင်က၊ သင်၏အမှု အရာတို့ကို အ
ဘယ် ပြောစရာ ရှိသနည်း။ သင်နှင့် ဇိဗသည်
မြေကိုဝေ၍ယူရကြမည်၊ ငါစီရင်ပြီဟုမိန့်တော်
၃၂ မူ၏။- မေဖိဗောရှက်ကလည်း၊ အရှင်မင်းကြီး
သည်နန်းတော်သို့တဖန်ငြိမ်ဝပ်စွာရောက်တော်
မူသောကြောင့်၊ သူသည်အလုံးစုံတို့ကိုပင်ယူပါ
စေဟုလျှောက်လေ၏။
၃၃ ဂိလဒ်ပြည်သားဗာဇိလဲသည်လည်းရောဂေ
လိမ်မြို့မှ လာ၍၊ ရှင်ဘုရင်ကို ယော်ဒန် မြစ် တ
ဖက်သို့ ပို့ ခြင်း ငှါ ကိုယ် တော် နှင့် အ တူ ကူး
၃၄ လေ၏။-ဗာဇိလဲသည်အသက်ရှစ်ဆယ်ရှိ၍အို
သောသူဖြစ်၏။ ရှင်ဘုရင်သည် မဟာနိမ်မြို့မှာ
တပ် ချသော ကာလ ပတ်လုံး ရှင် ဘုရင်ကို လုပ်
ကျွေး၏။ အလွန်ရတတ်သော သူလည်းဖြစ်၏။-
၃၅ ရှင်ဘုရင်ကလည်းငါနှင့်အတူလိုက်လော့။ယေ
ရုရှလင် မြို့၌ သင့်ကို ငါ နှင့် အတူ ငါလုပ် ကျွေး
၃၆ မည်ဟုဗာဇိလဲအားမိန့်ရှိလျှင်- ဗာဇိလဲက၊
အရှင်မင်းကြီးနှင့်အတူ ယေရုရှလင်မြို့သို့သွား
ရမည်အကြောင်း၊ ကျွန်တော်အသက်သည်အ
ဘယ်မျှလောက် ကျန် ကြွင်း ပါသေးသနည်း။-
၃၇ ထ ရှေ့ ကျွန် တော် အ သက် ရှစ်ဆယ် ရှိပါပြီ။

ကောင်း မကောင်းကို ကျွန်တော် ပိုင်းခြား၍ သိနိုင်ပါမည်လော။ ကိုယ်တော်ကျွန်သည် အစား အသောက်အရသာကို မြည်းနိုင်ပါမည်လော။ သီချင်းသည် ယောကျ်ား၊ သီချင်းသည် မိန်းမ ဆိုသော အသံကို ကြားနိုင် ပါမည် လော။ ကိုယ်တော် ကျွန် သည် အရှင်မင်း ကြီး ကို အဘယ်
၃၆ ကြောင့်နှောင့်ရှက်မှုပါမည်နည်း။- ကိုယ်တော်ကျွန် သည်အရှင် မင်းကြီးနှင့်အတူ ယော်ဒန်မြစ် တဖက်သို့အနည်းငယ် လိုက်ပါမည်။ ရှင်ဘုရင် သည် ဤမျှလောက်ကြီးစွာသော ဆုကိုအဘယ်
၃၇ ကြောင့် ချပေးတော် မူမည်နည်း။- ကိုယ် တော် ကျွန် သည်နေရင်းမြို့တွင် မိဘ သင်းချိုင်းနားမှာ သေရမည်အကြောင်း၊ ပြန်သွားရသော အခွင့် ကိုပေးတော်မူပါ၊ သို့ရာတွင်၊ ကိုယ်တော်ကျွန်ခိမဟံရှိပါ၏။ အရှင်မင်းကြီးနှင့် အတူ လိုက်စေ တော် မူပါ။ စိတ် တော် ရှိသည် အတိုင်း သူ၌ ပြု
၃၈ တော် မူပါ ဟု လျှောက် လေ ၏။- ရှင် ဘုရင် က လည်း၊ ခိမဟံသည် ငါနှင့်အတူ လိုက်ရမည်။ သင် အလိုရှိသည် အတိုင်း သူ၌ ငါပြုမည်။ သင် တောင်း သမျှကို လည်း သင့်အဖို့ ငါပြုမည် ဟု
၃၉ မိန့်တော်မူ၏။- လူအပေါင်းတို့သည်လည်း ယော်ဒန်မြစ်ကိုကူးကြ၏။ ရှင်ဘုရင်သည် ကိုယ်တိုင် ကူးပြီးမှ၊ ဗာဇိလဲကို နမ်း၍၊ ကောင်းကြီးပေးတော်မူသဖြင့်၊ သူသည်မိမိနေရာသို့ပြန်သွား၏။-
၄၀ ရှင်ဘုရင်သည်ဂိလဂါလမြို့သို့ကြွတော်မူ၏။ ခိမဟံသည်လည်း လိုက်လေ၏။ ယုဒအမျိုးသား ရှိ သမျှ တို့ နှင့်၊ ဣသရေလ အမျိုး သား တဝက် တို့ သည် ရှင်ဘုရင်ကိုပို့ကြ၏။
၄၁ တဖန်ဣသရေလအမျိုးသားအပေါင်းတို့သည် ရှင်ဘုရင်ထံ တော်သို့ လာ၍၊ ကျွန် တော်တို့ ညီ အစ်ကို ဖြစ်သောယုဒအမျိုးသားတို့သည်ကိုယ် တော်ကိုခိုးယူ၍၊ ကိုယ်တော်နှင့်တကွနန်းတော် သား၊ ကိုယ်တော်၏လူအပေါင်းတို့ကို အဘယ် ကြောင့်ယော်ဒန်မြစ်တဖက်သို့ပို့ရကြမည်နည်း
၄၂ ဟုလျှောက်ကြသော်- ယုဒအမျိုးသားအပေါင်း တို့က၊ ရှင်ဘုရင်သည်ငါတို့နှင့်ပေါက်ဖော်တော် သည် ဖြစ်၍၊ ဤ အမှု၌ သင်တို့ သည် အ ဘယ် ကြောင့်စိတ်ဆိုးကြသနည်း။ ရှင်ဘုရင်၏ရိက္ခာ တော်ကို ငါတို့စားကြသလော။ ငါတို့အားတစုံ တခုသော ဆုကို ပေး တော် မူသလော ဟု၊ ဣသ
၄၃ ရေလ အမျိုးသားတို့ အားပြန်ပြောကြ၏။- ဣသ ရေလ အမျိုးသား တို့ကလည်း၊ ငါတို့သည် ရှင်ဘုရင်၌ ဆယ်ဖို့ရှိ၏ ကို ဆိုင် ကြ၏။ ဒါဝိဒ် အမျိုး ကိုသင်တို့ ဆိုင်သည်ထက်ငါတို့သာ၍ ဆိုင်ကြ ၏၊ ရှင်ဘုရင်ကိုပြန်ပို့ခြင်းအမှုတွင်ငါတို့နှင့်ရှေ ဦးစွာ မတိုင်ပင်ဘဲ ဖေထယ်ကြောင့် ငါတို့ကိုမ ထီမဲ့မြင်ပြုကြသနည်းဟု၊ယုဒအမျိုးသားတို့ကို ပြန်ပြော ကြ ၏။ သို့ရာတွင်၊ ဣသရေလ အမျိုး သားတို့ စကားထက်ယုဒ အမျိုးသားတို့ စကား သည်သာ၍ခိုင်ခဲ့၏။

## ၂၀

၁ ထိုအခါ ဗယ်ာမိန်အမျိုး၊ ဗိခရိ၏သားရှေဘ အမည်ရှိသော အဓမ္မလူတယောက်ရှိ၏။ ထိုသူ သည် တံပိုးမှုတ်၍၊ ဖို ဣသရေလ အမျိုး၊ ငါတို့ သည်ဒါဝိဒ်၌ တဖို့ကိုမျှမဆိုင်။ ယေရှဲ၏သားကို အမွေမခံထိုက်၊ လူအပေါင်းတို့၊ ကိုယ်နေရာသို့
၂ သွားကြဟုဆိုသဖြင့်-ဣသရေလအမျိုးသားအပေါင်းတို့သည် ဒါဝိဒ် ထံတော်မှ ထွက်၍၊ ဗိခရိ သား ရှေဘ နောက်သို့ လိုက်ကြ၏။ ယုဒ အမျိုး သားတို့မူကား၊ယော်ဒန်မြစ်မှသည်ယေရုရှလင် မြို့တိုင်အောင် ရှင်ဘုရင် ၌ ဆည်းကပ်ကြ၏။-
၃ ဒါဝိဒ်မင်းကြီးသည် ယေရုရှလင်မြို့နန်းတော်သို့ ရောက်သောအခါ၊နန်းတော်ကိုစောင့်စေခြင်းငှါ ထားခဲ့သောကိုယ်လုပ်တော် တကျိပ်တို့ကိုယူ၍ ချောင် အိမ်၌ ထား၏။ ထိုသူ တို့ကို ကျွေးမွေး သော်လည်း၊ မပေါင်းလော်၊ သူတို့သည်သေသည် တိုင်အောင် အချုပ်ခံ၍ မုဆိုးမကဲ့သို့ နေရကြ
၄ ၏။- ရှင်ဘုရင်ကလည်း၊ သုံးရက် အတွင်းတွင် ယုဒလူတို့ကိုစုဝေးစေပြီးလျှင်၊ထိုသူတို့နှင့်အတူ ကိုယ်တိုင်လာရမည်ဟုအာမသအား မိန့်တော်
၅ မူ၏။- အာမသ သည် သွား၍ ယုဒ လူတို့ကို ခေါ် သော်သဖြင့်၊ မှိန်ချက်သော အချိန်ကို လွန်စေ
၆ ၏။-ဒါဝိဒ်ကလည်း၊ အဗရှလုံပြုသည်ထက်ဗိခ ရိသား ရှေဘသည် သာ၍ အပြစ် ပြုလိမ့်မည်။ သင့် သခင်၏ ကျွန်တို့ကိုခေါ်၍၊ ထိုသူကိုလိုက် လော့၊ သို့မဟုတ်၊ သူသည်ခိုင်ခံ့သောမြို့တစုံတ မြို့ထဲသို့ဝင်၍၊ ငါတို့ထံမှ လွတ်လိမ့်မည်ဟု
၇ အဘိရှဲအားမိန့်တော်မူသည်အတိုင်း၊-အဘိရှဲ နောက်မှာယွာဘ၏လူများနှင့်ခေရသိလူ၊ပေလ သိလူများမှစ၍ ခွန်အားကြီးသောသူအပေါင်း တို့သည် ဗိခရိသား ရှေဘကို လိုက်ထိုးသောငှါ
၈ ယေရုရှလင်မြို့မှထွက်သွားကြ၏။- ဂိဗောင်မြို့၌ ရှိသော ကျောက်ကြီးသို့ ရောက်ကြသောအခါ၊ အာမသသည်သူတို့ရှေ့သို့ရွှာ၊ ယွာဘ

သည်မိမိဝတ်သောအဝတ်ကိုခါး၌စည်းလျက်၊
ထိုခါးစည်းပေါ်မှာ ထည်၊ ထားကိုအိမ်နှင့်
တကွစွဲလျက်ထား၏။ သွား၍ထွင်ထားသည်
၉ ရှော၍ကျ၏။- ယွာဘကလည်း၊ မောင်လော၊
ငြိမ်သက်သလောဟု အာမသကိုမေး၍၊ နမ်းခြင်းငှါ လက်ျာ
လက်ဖြင့် အာမသ၏ မုတ်ဆိတ်ကို ကိုင်၏။-
၁၀ ယွာဘလက်၌ကိုင်သော ထားကို အာမသသည်
သတိမပြုသောကြောင့်၊ ဝမ်းကိုထိုး၍ အူကို
မြေပေါ်မှာ ကျ၏။ ထပ်၍မထိုးသော်လည်း၊ အာမ
သသေ၏။ ယွာဘနှင့်ညီအဘိရှဲသည် ဗိခရိ
၁၁ သားရှေဘကိုလိုက်ကြ၏။- လုလင်တယောက်သည် ယွာဘ
၏လူတယောက်သည်ရပ်၍ ယွာဘနှင့် ဒါဝိဒ်
ဘက်၌နေသော သူဖြစ်လျှင်၊ ယွာဘနောက်သို့
၁၂ လိုက်စေဟုဆို၏။- အာမသသည်လမ်းစ
ထဲတွင် မိမိအသွေး၌ လူးလျက်ရှိ၏။ လမ်း၌
သွားသောသူ အပေါင်းတို့သည်ရပ်၍ နေ
ကြသည်ကို ယွာဘ၏လူ မြင်သောအခါ၊ အာမ
သကိုလမ်းမှ ထုတ်၍၊ လယ်ပြင်သို့ရွှေ့ပြီးလျှင်၊
၁၃ အဝတ်နှင့်ဖုံးထား၏။- ထိုသို့လမ်းမှရွှေ့ပြီးမှ၊
လူအပေါင်းတို့သည်ယွာဘနှင့်အတူ ဗိခရိသား
ရှေဘကိုလိုက်သွားကြ၏။
၁၄ ယွာဘသည် ဗက်မာခါ ပြည်၊ အာဗေလ မြို့
တိုင်အောင်၊ ဣသရေလ အမျိုး ခပ်သိမ်း ရှိသမျှကို
ရှောက်သွား၏။ ဗေရိလူအပေါင်းတို့သည်လည်း
၁၅ စုဝေး၍ ယွာဘ နောက်သို့ လိုက် ကြ၏။ ရှေဘ
တည်းခိုသော ဗက်မာခါပြည်၊ အာဗေလမြို့ကို
ဝိုင်းထား၍၊ ပြင်မြို့ရိုးတစက်တချက်၌မြေမှုန့်ကို
ပုံကြ၏။ ယွာဘနှင့်သူ၏ လူအပေါင်းတို့သည်မြို့
၁၆ ရိုးကို ဖြိုဖျက်ခြင်းငှါ ထိုးခုတ်ကြ၏။- ထိုအခါ
ပညာရှိသော မိန်းမတယောက်သည် မြို့ထဲကအော်
၍ဆိုသည်ကား၊ နားထောင်ကြ၊ နားထောင်ကြ၊
ငါသည် ယွာဘနှင့် စကားပြောနိုင်စေခြင်းအ
ကြောင်း ချဉ်းလာပါစေဟု၊ ယွာဘအား လျှောက်
၁၇ ကြလော့ဟု ဆိုသည်အတိုင်း- ယွာဘသည်ချဉ်း
လာသောအခါ မိန်းမက၊ သင်သည် ယွာဘ ဟုတ်
သလောဟုမေးလျှင်၊ ငါဟုတ်သည်ဟုဆိုသော်၊
မိန်းမက၊ ကိုယ်တော်ကျွန်မ၏စကားကိုနားထောင်
တော်မူပါဟု ဆို၏။ ယွာဘကလည်း၊ ငါနား
၁၈ ထောင်လျက်နေသည်ဟုဆိုသော်- မိန်းမက၊ အ
ကယ်စင်စစ် အာဗေလမြို့မှာ ထိုင်ပင်၍ အမှုကို
ဆုံးဖြတ်ပါလေစေဟု၊ ရှေးကာလ၌ဆိုတတ်
၁၉ ကြ၏။- ကျွန်မသည် ဣသရေလအမျိုး၌အမှု

မထမ်းပါ။ အသွား အောင့်သေ သူ ဖြစ်ပါ၏။ ကိုယ်
တော်သည် မြို့တမြို့တည်း၊ တည်သော ဣသရေလ
အမျိုးတွင် အမိတယောက်ကို ဖျက်ဆီးခြင်းငှါ
ရှာတော်မူ၏။ ထာဝရဘုရား၏အမွေတော်ကိုမျို
ခြင်းငှါ အဘယ်ကြောင့်အလိုရှိတော်မူသနည်း
၂၀ ဟုလျှောက်လျှင်- ယွာဘက၊ မျိုခြင်းအမှု၊ ဖျက်
ဆီးခြင်းအမှုသည်ငါနှင့်ဝေးပါစေသော။ဝေးပါ
၂၁ စေသော။- ထိုသို့မဟုတ်ပါ။ ဧဖရိမ်တောင်သား
ဖြစ်သော၊ ဗိခရိ၏သားရှေဘ အမည်ရှိသောသူ
သည်ရှင်ဘုရင်ဒါဝိဒ်ကိုပုန်ကန်ပြီ။ ထိုသူကိုအပ်
ပေးလျှင်၊ ငါသည် ဤမြို့မှ ထွက်သွား မည်ဟု
ပြောဆိုသော်၊ မိန်းမ၊ သူ၏ ဦးခေါင်းကို ကိုယ်
၂၂ တော်ရှိရာသို့ပြစ်ချပါမည်ဟု ဆိုပြီးမှ- ထိုမိန်းမသည်
ပညာရှိသည် အတိုင်း၊ မြို့သားတို့ရှိရာသို့ သွား
ပြီး လျှင်၊ သူတို့သည် ဗိခရိသား ရှေဘ၏
ဦးခေါင်းကို ဖြတ်၍ ယွာဘရှေ့သို့ ပြစ်ချကြ၏။
ယွာဘသည်လည်းတံပိုးမှုတ်သဖြင့်၊ လူများတို့
သည်ထိုမြို့မှ မိမိတို့နေရာသို့ပြန်သွားကြ၏။ ယွာ
ဘသည် ယေရုရှလင်မြို့၊ ရှင်ဘုရင်ထံ
၂၃ တော်သို့ ပြန်သွား၏။- ယွာဘသည် ဣသရေလ
တပ်သား၊ အပေါင်းတို့ကို အုပ်သော ဗိုလ်ချုပ်
မင်းဖြစ်၏။ ယောယဒသား ဗေနာယသည် ခေရ
၂၄ သိလူနှင့်ပေလသိလူတို့ကိုအုပ်ရ၏။- အဒေါနိရံ
သည် အခွန်တော်ဝန်ဖြစ်၏။ အဟိလုဒ်သား
၂၅ ယောရှဖတ်သည် အတွင်းဝန် ဖြစ်၏။- ရှေဝ
သည် စာရေးတော်ကြီး ဖြစ်၏။ ဇာဒုတ်နှင့် အ
၂၆ ဗျာသာသည်ယဇ်ပုရောဟိတ်ဖြစ်၏။- ယာဣရ
မြို့သား ဣရသည်နန်းတော်အုပ်ဖြစ်၏။

၂၁

၁ ထိုနောက်၊ ဒါဝိဒ်လက်ထက်၌သုံးနှစ်ပတ်လုံး
အစာ အာဟာရ ခေါင်းပါး ခြင်းဖြစ်၍၊ ဒါဝိဒ်
သည် ထာဝရဘုရားကိုမေးလျှောက်လျှင်၊ ထာ
ဝရဘုရားက၊ ဂိဗောင်လူတို့ကိုသတ်သောရှော
လုနှင့် လူအသက်ကိုသတ်တတ်သောရှောလုအ
မျိုးကြောင့်၊ ဤအမှုရောက်လေပြီဟုမိန့်တော်မူ
၂ ၏။- ဂိဗောင် လူတို့သည် ဣသရေလ အမျိုးအ
ဝင် မဟုတ်၊ ကျန်ကြွင်းသော အာမောရိ အမျိုး
ဖြစ်ကြ၏။ ဣသရေလအမျိုးတို့သည်သူတို့အား
အစွာကတိ ထားကြသော်လည်း၊ ရှောလုသည်
ဣသရေလ အမျိုးနှင့် ယုဒ အမျိုး၏ အကျိုးကို
စောင့်ရှောက်၍၊ သူတို့ကို သတ်မည်ဟု အား
၃ ထုတ်ထ ထည်း။- ထို အခါ ရှင်ဘုရင်သည်

ဂိဗောင်လူတို့ကိုခေါ်၍၊သင်တို့အမှုအဘယ်သို့
ပြုရမည်နည်း၊ သင်တို့သည် ထာဝရဘုရား ၏
အမွေတော်ကို ကောင်းကြီး ပေးစေခြင်းငှါ၊ အ
၄ ဘယ်သို့ အပြစ်ဖြေရမည်နည်းဟုမေးလျှင်– ဂိ
ဗောင်လူတို့က၊ ကျွန်တော်တို့သည်ရှောလုနှင့်
သူ၏အမျိုး၌ရွှေငွေကိုမတောင်းပါ၊ ကျွန်တော်
တို့ အ တွက်၊ ဣ သရေလ အ မျိုး သား တ စုံ တ
ယောက် ကိုမျှ ကိုယ်တော်သည်မသတ်ရဟုပြန်
လျှောက် ကြ သော်၊ သင်တို့ တောင်း သည် အ
၅ တိုင်းငါပြုမည်ဟုမိန့်တော်မူ၏၊–လူတို့ကသည်း
ကျွန်တော်တို့ကို ညှဉ်းဆဲ၍၊ ဣ သရေလ နိုင်ငံ
အတွင်း၌အကျွန်ုပ်မနေရမည်အကြောင်း၊လုတ်
၆ သင်ပယ်ရှင်းခြင်းငှါကြံစည်းသောသူ၏ သား
ခုနစ်ယောက်တို့ကို ကျွန်တော်တို့ထံသို့ အပ်
တော်မူပါ၊ထာဝရဘုရားရွေးချယ်တော်မူသော
ရှောလု နေရာဂိဗာမြို့၌၊ ထိုသူတို့ကို ကျွန်တော်
တို့သည် ထာဝရဘုရားအမှုဆွဲထားပါမည်ဟု
လျှောက်သော်၊ရှင်ဘုရင်က၊ ငါအပ်မည်ဟုမိန့်
၇ တော်မူ၏။– သို့သော်လည်း၊ဒါဝိဒ်နှင့်ရှောလု၏
သားယောနသန် တို့ သည် ထာဝရ ဘုရား ရှေ့
တော်၌ တယောက် နှင့် တယောက် သစ္စာ ဂတိ
ထား သော ကြောင့်၊ ရှင်ဘုရင် သည် ရှောလု၏
သားယောနသန်မြင်သော မေဖိဗောရှက်ကို နှမ်
၈ ခြောတော်မူ၏။– ထိုမှတစ်၍၊ ရှင်ဘုရင်သည် အဲ
အာတို့၏ရိဇပါ ဖွားမြင်သောရှောလု၏သား အာ
မောနိနှင့်မေဖိဗောရှက်နှစ်ယောက်မှစ၍၊ရှော
လု၏သမီး မေရပ်တွင် မေဟောလသိအမျိုး၊ ဗာဇိ
ထဲ၏သား အဒြေလမြင်သောသား ငါးယောက်
၉ တို့ကိုယူ၍– ဂိဗောင်လူတို့လက်သို့အပ်သဖြင့်၊
သူတို့သည် တောင်ပေါ်တွင် ထာဝရဘုရားရှေ့
တော်၌ဆွဲထား၍၊ ထိုသူခုနစ်ယောက်တို့သည်
စုဝေး၍ ပါး မိတ်စ ကာလ၊ တနေ့ချင်း တွင်အ
သေသတ်ခြင်းကို ခံရ၍တပြိုင်နက် သေကြ၏။–
၁၀ အဲအာတို့၏ရိဇပါသည်လျှော်တေကို ယူ၍၊
ကျောက်ပေါ်မှာ ထိပ်စရာအို ခင်းလျက်၊ နေ့ အ
ချိန်တွင် အသေကောင်အပေါ်၌ငှက်မနား၊
ညဉ့်အချိန်တွင် သားရဲမကိုက်စေခြင်းငှါစောင့်
၁၁ ရှောက်လျက်နေ၏။– ရှောလု၏ကိုယ်လုပ်တော်၊
အဲအာ တို့ ရိဇပ ပြုသော အမှုကို ဒါဝိဒ် သည်
၁၂ ကြားသောအခါ– ဖိလိတ္တိလူတို့သည် ဂိလဗော
တောင်၌ရှောလုကိုသတ်၍၊အသေကောင်တော်ကို

ဆွဲထားရာ ဗက်ရှန်လမ်းမှခိုးသွားသော ဂိလဒ်
ပြည်ယာဗက်မြို့သူမြို့သားတို့မှိရာသို့ရှင်ဘုရင်
သွား၍၊ ရှောလုအရိုးနှင့်သားတော်ယောနသန်
၁၃ အရိုးတို့ကို ယူ၍– ထို အရပ်မှ ဆောင်သွား သ
ဖြင့်၊ ဆွဲထားသောသူတို့၏ အရိုးများကိုလည်း
၁၄ စု သိမ်း ပြီး လျှင်– ဗင်္ယာမိန် ပြည်၊ ဇေလ ရွာ၊
ရှောလုအဘ ကိရှ၏ သင်းချိုင်း၌ သင်းဂြိုဟ်၍၊
ရှင်ဘုရင် မှာထားသမျှ အတိုင်း ပြုကြပြီးသော
နောက်၊ နိုင်ငံတော်အမှုဆုတောင်းသောစကား
ကိုဘုရားသခင်နားထောင်တော်မူ၏။
၁၅ နောက်တဖန်၊ ဖိလိတ္တိလူတို့သည်ဣသရေလ
အမျိုးသားတို့ကိုစစ်တိုက်၍၊ဒါဝိဒ်နှင့်သူ၏ကျွန်
တို့သည်ဆင်းကြ၍တိုက်ဖျက်ကြစဉ်၊ဒါဝိဒ်သည်
၁၆ မောပန်းလျှက် နေသော်၊– ရေဖိမ်အမျိုး ဣရှဗိ
ဗေနုဝ်သည် အချိန်သုံးပိဿာရှိသောကြေးဝါ
လှံကိုကိုင်၍၊ အသစ်သော စစ်တန်ဆာကို ဝတ်
၁၇ ဆင်လျက်ဒါဝိဒ်ကိုသတ်မည်ဟုကြံသော်။–ဇေ
ရုယာသား အဘိရှဲသည်ကူညီ၍၊ဖိလိတ္တိလူကို
တိုက်သတ်လေ၏၊ ထိုအခါ ဒါဝိဒ်၏လူတို့က၊ ဣ
သရေလ အလင်းကွယ်မည် ဟု စိုးရိမ် စရာရှိ
သောကြောင့်၊ ကိုယ်တော်သည် ကျွန်တော်တို့
နှင့်အတူ နောက်ထပ်စစ်မချီကြွတော်မမူရဟု
၁၈ ကျိန်ဆို လျက် လျှောက်ကြ၏။– နောက် တဖန်
ဂေါဘမြို့မှာ ဖိလိတ္တိလူ တို့ကိုစစ်တိုက်ကြစဉ်၊
ဟုရှသိလူသိဗေခဲသည် ရေဖိမ်အမျိုးသားစာဖကို
၁၉ သတ်လေ၏၊–နောက်တဖန်ဂေါဘမြို့မှာဖိလိတ္တိ
လူတို့ကိုစစ်တိုက်ကြစဉ်၊ ဗက်လင်မြို့သားဖြစ်
သော ယာရေ ဩရဂိမ်၏သား ဧလဟာနန်သည်ရက်ကန်း
ထက် လိပ် နှင့် အမျှ ကြီး သော လှံ ရိုးကို ကိုင်း ရှိ
သောဂိတ္တိအမျိုးဂေါလျတ်၏ညီလာမိကိုသတ်
၂၀ လေ၏။– နောက်တဖန် ဂါသ မြို့မှာ စစ်တိုက် ကြ
စဉ်၊ အရပ်မြင့်၍လက်တဖက်၌ လက်ချောင်း
ခြောက် ချောင်း၊ ခြေ တဖက် ၌ ခြေ ခြောက်ချောင်း ပါ၊
ပေါင်း နှစ်ဆယ်လေးချောင်းရှိသော ရေဖိမ်အ
၂၁ မျိုးသား တယောက်သည်– ဣသရေလ အမျိုး
ကိုကြိမ်းပသောအခါ၊ဒါဝိဒ်အစ်ကိုရှိမာ၏သား
၂၂ ယောနသန်သည် ထိုသူကိုသတ်လေ၏။– ထိုသူ
လေးယောက်တို့သည်ဂါသမြို့၌နေသောရေဖိမ်
လူကြီး၏ သား ဖြစ်၍၊ ဒါဝိဒ်နှင့် သူ၏ ကျွန် တို့
လက်ဖြင့်သေကြ၏။

၂၂

၁ ဒါဝိဒ်သည်ရှောလုမင်းမှစ၍ ရန်သူအပေါင်း

ပြီထက်မှ၊ ထာဝရဘုရား ကယ်လွှတ်တော်မူ
ခြင်းကျေးဇူးကို ခံရသောအခါ၊ ထာဝရဘုရား
ရှေ့တော်တွင်မြွက်ဆိုသော သီချင်းစကားဟူမူ
၂ ကား။- ထာဝရဘုရားသည်ငါ၏ကျောက်၊ငါ၏
၃ မြို့ရိုး၊ငါ့ကိုကယ်လွှတ်သောသခင်၊-ငါ၏ဘုရား၊
ငါကိုးစားသော အစွမ်းသတ္တိ၊ ငါ၏ အကွယ်အ
ကာ၊ ငါ့ကို ကယ်တင်သော ဦးချို၊ ငါ၏ရဲတိုက်၊
ငါမှီခိုရာ၊ငါ့ကိုကယ်တင်သောအရှင်ဖြစ်တော်
မူ၏၊ ကိုယ်တော်သည် ညှဉ်းဆဲခြင်းထဲက အ
၄ ကျွန်ုပ်ကို ကယ်လွှတ်တော်မူ၏။- ချီးမွမ်းအပ်
သော ထာဝရဘုရားကို ငါတောင်းလျှောက်၍၊
ရန်သူတို့ထက်မှ ကယ်တင်ခြင်းသို့ ရောက်၏။-
၅ သေခြင်းလှိုင်းတံပိုးတို့သည်ငါ့ကို ဝိုင်းမိ၍၊ဖျက်
ဆီးတတ်သော ရေစီးခြင်းကြောင့် ငါကြောက်
၆ လန့်ရ၏။- မရဏာနိုင်ငံ၏ ကြိုးတို့သည် ဝိုင်း၍
သေမင်း၏ ကျော့ကွင်းသည် ငါ့ကို ကျော့မိလျက်
၇ ရှိ၏။- ထိုသို့ငါသည် ဆင်းရဲခြင်းသော အခါ၊
ထာဝရ ဘုရားကိုခေါ်၍၊ ငါ၏ ဘုရား သခင်ကို
အော်ဟစ် လေ၏၊ ခေါ်သော အသံကို ဗိမာန်
တော်ထဲမှာကြားတော်မူ၍၊အော်ဟစ်သောအ
သံသည်နားတော်ထဲသို့ဝင်လေ၏။
၈ ထိုအခါ အမျက်တော် ထွက်သော အားဖြင့်၊
မြေကြီးတုန်လှုပ်၍၊ မိုဃ်းကောင်းကင် အမြစ်
၉ တို့သည်တရွေ့ရွေ့လှုပ်ရှားကြ၏။- နှာခေါင်း
တော်ထဲက မီးခိုးထွက်၍၊ နှုတ်တော်ထဲကမီး
လောင်သော အားဖြင့် မီးခဲ တောက် လေ၏။-
၁၀ မိုဃ်းကောင်းကင်ကို ညွတ်သဖြင့် ဆင်းသက်
တော်မူ၍၊ ခြေဖဝါးတော်အောက်၌မှောင်မိုက်
၁၁ ဖြစ်လေ၏။- ခေရုဗိမ်ကို စီးလျက် ပျံတော်မူ၏၊
လေ၏ အတောင်တို့ အပေါ်မှာ ထင်ရှားတော်မူ
၁၂ ၏။- မှောင်မိုက်တည်းဟူသော တဲနက်သော
ရေနှင့်ထူထပ်သောမိုဃ်းတိမ်တို့ကိုကိုယ်တော်
၁၃ ၌ ကာရံစေတော်မူ၏။- ရှေ့တော်၌ ရောင်ခြည်
၁၄ ကြောင့်မီးခဲတောက်လျက်ရှိ၏။-ထာဝရဘုရား
သည်လည်း၊ကောင်းကင်ပေါ်မှာမိုဃ်းချုန်း၍၊
အမြင့်ဆုံးသော ဘုရားသည် အသံတော်ကိုလွှင့်
၁၅ တော်မူ၏။-ထေးမြားတို့ကိုပြစ်၍၊လျှပ်စစ်ပြက်
စေသဖြင့်၊ ရန်သူတို့ကို အရပ်ရပ်သို့ ကွဲ၍ ရှုံးစေ
တော်မူ၏။
၁၆ ထိုအခါ ထာဝရဘုရားသည် အပြစ်တင်၍၊
နှာခေါင်းတော်ထဲက အထွက် ရှူတော် မူသော
အားဖြင့်၊ သမုဒ္ဒရာ အောက်ခြေ နှင့် လောက
ထိုက်မြစ်တို့သည် ပွင့်ဖွင့်ထင်ပေါ်လျက် ရှိကြ
၁၇ ၏။- အထက်အရပ်က လက်တော်ကိုဆန့်၍၊အ
ဓိနက်သော ရေထဲက ငါ့ကို ဆယ်ယူတော်မူ၏။-
၁၈ ငါ့ကိုရန်းသောသူတည်းဟူသော၊ငါပြိုင်၍မနိုင်
နိုင်အောင် ခွန်အားကြီးသော ရန်သူတို့ထက်မှ
၁၉ ငါ့ကိုကယ်လွှတ်တော်မူ၏။-ဘေးဥပါတ်ရောက်
သောကာလ၌သူတို့သည်ဆီးတားသော်လည်း၊
၂၀ ထာဝရဘုရားသည်ငါမှီခိုရာဖြစ်၍-ငါ့ကိုကျယ်
ဝန်းရာ အရပ်သို့ ပို့ဆောင် တော် မူ၏၊ ငါ့ကိုနှစ်
သက်သောကြောင့်ကယ်လွှတ်တော်မူ၏။
၂၁ ငါဖြောင့်မတ်ခြင်းရှိသည်အလျောက် ထာဝ
ရဘုရားသည်အကျိုးကိုပေး၍၊ငါ၏စင်ကြယ်
၂၂ ခြင်း၏ အကျိုးကိုမီရင်တော်မူ၏။- အကြောင်း
မူကား၊ငါသည်ထာဝရဘုရား၏ထမ်းတော်သို့
အစည်လိုက်၏၊ငါ၏ဘုရားသခင်ထံမှပြစ်မှား၍
၂၃ မသွား။- စီရင်တော်မူချက်ရှိသမျှကို ငါသည်
မျက်မှောက်ပြု၏၊ အထုံးအဖွဲ့တော်ထို့မှ မလွှဲ။-
၂၄ ရှေ့တော်မှာဖြောင့်မတ်၍ကိုယ်ကိုစောင့်ကြဉ်
၂၅ ရှောင်၏။-ထိုကြောင့်ရှေ့တော်မှာထင်ရှားသော
ငါ၏ဖြောင့်မတ်ခြင်း၊ စင်ကြယ်ခြင်းရှိသည်နှင့်
အလျောက်၊ ထာဝရဘုရားသည် ငါ၌ အကျိုး
၂၆ ကို ပေးတော်မူပြီ။- ထနားတတ်သော သူအား
ကိုယ်တော်သည် သနားခြင်း၊ သဘောကိုဒုဝိ၊
ဖြောင့်မတ်သော သူ အား ဖြောင့်မတ်ခြင်း၊ သ
၂၇ ဘောကို ဒုဝိ- သန့်ရှင်းသော သူ အား သန့်ရှင်း
ခြင်း၊ သဘော ကိုဒုဝိ၊ ထန့်ကျင် သော သူ အား
၂၈ ဆန့်ကျင်သောသဘောကိုဒုဝိပြတော်မူ၏။-နှိမ့်
ချလျက်ရှိသောသူတို့ကို ကိုယ်တော်သည်ကယ်
တင်၍၊ မာန ထောင်သွားသော သူတို့ ကိုကား၊
၂၉ နှုတ်ချခြင်းငှါ ကြည့်မှတ်တော်မူ၏။- အို ထာဝ
ရဘုရား၊ ကိုယ်တော်သည် အကျွန်ုပ်၏ မီးခွက်
ဖြစ်တော်မူ၏၊ ထာဝရဘုရားသည်အကျွန်ုပ်၏
၃၀ မှောင်မိုက် ကို ထင်းစေတော် မူ၏။- အကျွန်ုပ်
သည်ကိုယ်တော်ကိုအမှီပြု၍တပ်ကိုဖျက်ပါပြီ၊
အကျွန်ုပ်၏ဘုရားသခင်ကိုအမှီပြုလျက်မြို့ရိုးကို
ကျော်၍ဝင်ပါပြီ၊
၃၁ ဘုရားသခင် စီရင်တော်မူသော အမှုသည် စုံ
လင်၏၊ထာဝရဘုရား၏သန္တာတော်သည်အစစ်
ခံ၍တစ်၏၊မှီလှုံသောသူအပေါင်းတို့၏အကွယ်
၃၂ အကာ ဖြစ်တော် မူ၏။- ထာဝရဘုရားမှတပါး
အဘယ် ဘုရားသခင် ရှိ သနည်း။ ငါတို့ ဘုရား
သခင်မှတပါးအဘယ်မည်သော ကျောက်ရှိသ

၃၃ ခုညီး။-ထိုဘုရားသခင်သည်ငါ၏ခွန်အား၊ငါ၏
အန်မိုးဖြစ်၍ငါသွားရာထမ်းကိုဖြောင့်စေတော်
၃၄ မူ၏။- ငခြေကို သမင် ခြေကဲ့သို့ လျင်မြန် စေ၍၊
ငါ၏မြင့်ရာအရပ်ပေါ်မှာ ငါ့ကိုတင်ထားတော်မူ
၃၅ ၏။-ငလက်ကိုစစ်မှု၌လေ့ကျက်စေခြင်းငှါ ဆွန်
သင်တော်မူ၍၊ ကြေးဝါလေးကို ငလက် ရုံးနှင့်
ငါတင်နိုင်၏။
၃၆ ကိုယ်တော်သည် ကယ်တင်တော်မူခြင်း ဒိုင်း
လွှားကို ပေး၍၊ သည်းခံတော်မူခြင်း အားဖြင့်၊
အကျွန်ုပ်သည် ကြီးမြောက်ခြင်းသို့ရောက်ပါ၏။-
၃၇ အကျွန်ုပ် သွားသောထမ်းကို ရှင်းထင်း၍၊ခြေမ
၃၈ ချော် စေခြင်းငှါ ပြု တော် မူသော အားဖြင့်- အ
ကျွန်ုပ်သည်ရန်သူတို့ကိုလိုက်ဖျက်၍၊ သူတို့ကို
၃၉ မပယ်ရှင်းမှီ ထိုင်အောင်မပြန်ပါ။- သူတို့သည်
အကျွန်ုပ် ခြေအောက်မှာလဲလျက်ရှိ၍၊ မထနိုင်
အောင် အကျွန်ုပ်သည် နှိပ်နင်း ပယ်ရှင်းပါ၏။-
၄၀ အကြောင်း မူကား၊ စစ်တိုက် စေခြင်း ငှါ ကိုယ်
တော်သည်အကျွန်ုပ်ကိုခွန်အားခါးပန်းနှင့်စည်း
၍၊အကျွန်ုပ်တဘက်၌ထသောသူတို့ကိုအကျွန်ုပ်
၄၁ အောက် မှာ လဲတော် မူ၏။- အကျွန်ုပ် ကို မုန်း
သောရန်သူတို့၏လည်ပင်းကိုအကျွန်ုပ်၌အပ်၍
၄၂ ဖျက်ဆီးရသောအခွင့်ကိုပေးတော်မူ၏။- သူတို့
သည် အော်ဟစ် ကြသောအခါ ကယ်တင်သော
သူမရှိ။ ထာဝရဘုရားကိုအော်ဟစ်သော်လည်း
၄၃ ထူးတော်မမူ။- ထိုအခါအကျွန်ုပ်သည်သူတို့ကို
မြေမှုန့်ကိုကဲ့သို့ညက်ညက်ခြေပြီ၊မှ၊ထမ်း၌အ
မှိုက်ကိုကဲ့သို့နင်း၍ဖြန့်ကြဲလေ၏။
၄၄ လူစုတို့သည်ဆိုင်ပြိုင်တိုက်လှန်ခြင်းမှအကျွန်ုပ်
ကိုကယ်လွှတ်၍၊ တပါးအမျိုးသားတို့၏ အကဲ
အမှူးဖြစ်စေခြင်းငှါ၊စောင့်ရှောက်တော်မူသော
အားဖြင့်၊ အကျွန်ုပ်မသိသူသောလူစုသည် အ
၄၅ ကျွန်ုပ်ထံ၌ကျွန်ခံပါ၏။- တပါးအမျိုးသားတို့
သည်အကျွန်ုပ်ကိုတောင်းပန်၍၊အကျွန်ုပ်စကား
သံကိုကြားသည် ခဏချင်းတွင် နားထောင်ကြ
၄၆ ပါ၏။-ညှိုးနွမ်းသည်ဖြစ်၍မိတ်ရာအရပ်ထဲက
၄၇ တုန်လှုပ်လျက် ထွက်ကြပါ၏။- ထာဝရဘုရား
သည် အသက် ရှင် တော် မူ သည် ဖြစ် ၍၊ ငါ၏
ကျောက်၌ မင်္ဂလာရှိပါစေသတည်း။ ငါ့ကိုကယ်
တင်သော ကျောက်၏ ဘုရားသခင်၌ ချီးမြှောက်
၄၈ ခြင်း ရှိပါစေသတည်း။- ငါ့ထက်၌တရားသဖြင့်
စီရင်၍၊ လူစုတို့ကိုငါ့အောက်မှာ နှိမ့်ချသောသူ
၄၉ ကား ဘုရားသခင်ပေတည်း။- ရန်သူတို့ထက်မှ
ငါ့ကိုကယ်လွှတ်တော်မူ၏။အကျွန်ုပ်တဘက်၌ထ
သောသူတို့အပေါ်သို့ကိုယ်တော်သည်အကျွန်ုပ်
ကိုချီးမြှောက်တင်၍၊ လုယူဖျက်ဆီးတတ်သောသူ
၅၀ ၏ ထက်မှ ကယ် လွှတ် တော်မူ၏။- ထို့ကြောင့်
အို ထာဝရဘုရား၊ အကျွန်ုပ်သည် တပါးအမျိုး
သားတို့တွင် ကျေးဇူးတော်ကို ချီးမွမ်း၍၊ နာမ
၅၁ တော်ကို ထောမနာသီခြင်းဆိုပါမည်။- ဘုရား
သခင်သည် မိမိခန့်ထားသောမင်းကြီးကိုကယ်
တင်သောရဲတိုက်ဖြစ်တော်မူ၏။ဘိသိတ်တော်
ကိုခံရသောဒါဝိဒ်မှစ၍အမျိုးအနွယ်အား၊ထာ
ဝ ရ စည် ရ ဆတ် ကရုဏာ ကျေးဇူးကို ပြု
တော်မူ၏။

၂၃

၁ ဒါဝိဒ်မြွက်ဆိုသော နောက်ဆုံးစကားတည်း။
ဗျေသား၊ ယာကုပ်အမျိုး၏ဘုရားသခင်အခွင့်
နှင့်ဘိသိတ်ခံရ၍ ဘုန်းကြီးသောသူ၊ ဣသရေ
လအမျိုး၌ ရှုပြန်ရွာသီခြင်းဆိုသော ယေရှဲ၏
သား ဒါဝိဒ် မြွက်ဆိုသောပရောဖက်စကားဟူမူ
၂ ကား။-ထာဝရဘုရား၏ဝိညာဉ်တော်သည်ငအား
ဖြင့်မိန့်တော်မူ၏။နှုတ်ကပတ်တော်သည်ငလျှာ
၃ ၌ကည်၏။- ဣသရေလအမျိုး၏ဘုရားသခင်၊ဣ
သရေလအမျိုး၏ကျောက်သည် ငအားဖြင့်မိန့်
မြွက်တော်မူသည်ကား၊ လူတို့ကို အုပ်စိုးသော
လူသည် တရားသဖြင့် စီရင်၍၊ ဘုရားသခင်ကို
၄ ကြောက်ရွံ့လျက် အုပ်စိုး ရမည်။- မိုဃ်းမရွာ၊
နေ ထွက်သော နံနက် အလင်းကဲ့သို့၎င်း၊ မိုဃ်း
ရွာပြီးမှနေပေါ် ထွန်းသဖြင့်၊ မြေ၌ပေါက်သော
၅ မြက်နု ကဲ့သို့၎င် ဖြစ်ရလိမ့်မည်။- ငအမျိုး အ
နွယ်သည်ဘုရားသခင်ရှေ့တော်၌ မြဲမြံသည်ပ
ယုတ်လောသောသချာစွာစီရင်၍ မပျက်နိုင်သော
နိစ္စထာဝရပဋိညာဉ်ကို ငါနှင့်ဖွဲ့တော်မူပြီ။ ထို
ပဋိညာဉ်သည်ချက်ချင်းမပြည့်စုံသော်လည်း၊
ငါ့ကို ကယ် တင်ရာ အကြောင်း၊ ငါအလိုရှိ နှစ်
၆ သက်ရာအကြောင်းဖြစ်၏။- အဓမ္မလူအပေါင်း
တို့မူကား၊လက်နှင့်မကိုင်သာ၊ ပယ်ရှားရသော
၇ ဆူးပင်ကဲ့သို့ဖြစ်ရကြလိမ့်မည်။-ပယ်ရှားသော
သူသည် သံချပ် အင်္ကျီနှင့် လှံတံကိုသုံးဆောင်သ
ဖြင့်၊ ဆူးပင် ပေါက်သော အရပ်၌ပင် ရှင်းရှင်း
မီးရှို့ရသတည်း။
၈ ဒါဝိဒ်၏အမှုတော်ထမ်းသူရဲကြီးတို့၏အမည်
တို့ဟူမူကား၊ တပွေါ်နိအမျိုးယာရှောဘံသည်
ဗိုလ်ချုပ်ဖြစ်၏။ ထိုသူသည်လှံကိုကိုင်လျက် လူ

ယုံးရာကို တခါတည်းထိုးသတ်၍ လုပ်ကြံသော်၏။-
၉ ထိုနောက်မှာ အဟောဟိ အမျိုး ဒေါဒေါ့သား
ဧလာဇာသည်ဒါဝိဒ်နှင့် အတူလိုက်သော ထုရဲ
သုံးယောက် အဝင် ဖြစ်၏။ စစ်တိုက် ခြင်းငှါ စု
ဝေးသောဖိလိတ္တိလူတို့ကိုကြိမ်းပ၍ဣသရေလ
၁၀ လူတို့သည် ဆုတ်သွားသောအခါ၊- ထိုသူသည်
ထတ်ညောင်း၍ ထားနှင့် မိလျက် နေရသည်တိုင်
အောင်ထ၍၊ ဖိလိတ္တိ လူ တို့ကို လုပ် ကြံ သဖြင့်၊
ထာဝရဘုရားသည်ထိုနေ့၌ကြီးစွာသောအောင်
မြင်းကိုပြုတော်မူ၍၊သူတို့သည်ရန်သူတို့၏ဥစ္စာ
၁၁ ကိုလုယူခြင်း ငှါသာ ပြန်လာကြ၏။- သူနောက်
မှာ ဟရရိ အမျိုး အာဂိ၏သား ရှမ္မသည်ရှိ၏။ ဖိ
လိတ္တိလူတို့သည် ပြောင်းစပါး မိုက်သောလယ်
ကွက်၌စုဝေး၍၊ ဣသရေလ လူတို့သည် ပြေးကြ
၁၂ သောအခါ- ထိုသူသည်လယ်ကွက် အလယ်၌
ရပ်၍ခံခွင့်မလျှက်၊ဖိလိတ္တိလူတို့ကို လုပ်ကြံသ
ဖြင့်၊ ထာဝရဘုရားသည် ကြီးစွာသော အောင်
၁၃ မြင်းကိုပြုတော်မူ၏။- မိုလ်စုအဝင်သုံးယောက်
တို့သည် စပါးရိတ်ရာ ကာလ၌၊ ဒါဝိဒ်ရှိရာအဒု
လံဥမှင်သို့ ဆင်းသွား၍၊ ဖိလိတ္တိ လူတို့သည်ရေ
၁၄ ဖိမ်ချိုင့်၌ တပ်ချလျက် ရှိကြ၏။- ထိုအခါ ဒါဝိဒ်
သည်ရဲတိုက်တွင်နေ၍၊ဖိလိတ္တိလူတို့သည်ဗက်
၁၅ လင်မြို့၌ တပ်ချကြ၏။- ဒါဝိဒ်ကလည်း၊ တစုံတ
ယောက်သောသူသည်ဗက်လင်မြို့တံခါးနားမှာ
ရှိသောရေတွင်းထဲကရေကိုခပ်၍၊ငါ့အားပေးပါ
စေသောဟု၊ တောင့်တသောစိတ် နှင့်ဆိုသော်-
၁၆ ထိုသူရဲသုံးယောက်တို့သည်ဖိလိတ္တိတပ်ကိုဖောက်
၍ဗက်လင်မြို့ တံခါးနားမှာ ရှိသော ရေတွင်းထဲ
ကရေကိုခပ်ယူပြီးလျှင်ဒါဝိဒ်ထံတော်သို့ဆောင်
ခဲ့ကြ၏။သို့သော်လည်း၊ ဒါဝိဒ်သည် မသောက်
၁၇ ဘဲထာဝရဘုရားရှေ့တော်၌သွန်လျက်- ထိုထာ
ဝရဘုရား၊ ဤရေကိုသောက်သော အမှုသည်အ
ကျွန်ုပ်နှင့်ဝေးပါစေသော၊ ဤရေသည်ကိုယ်အ
သက်ကို မ နှမြောဘဲ သွား သော သူ တို့ ၏ အ
သွေးဖြစ်ပါသည်မဟုတ်ပါလောဟုလျှောက်၍
မသောက်ဘဲနေ၏။ထိုသူရဲ သုံးယောက်တို့သည်
၁၈ ထိုသို့သောအမှုတို့ကိုပြုကြ၏။- ဇေရုယာသား
ယွာဘညီအဘိရှဲသည်လည်း သူရဲ သုံးယောက်
တွင်အကြီးဖြစ်၏။ သူသည် လှံကိုကိုင်၍ လူသုံး
ရာတို့ကိုတိုက်ဖျက်လုပ်ကြံသောကြောင့်၊ သူရဲ
၁၉ သုံးယောက် အဝင် နေရာရသတည်း။- သူရဲ သုံး
ယောက်တွင်အမြတ်ဆုံးဖြစ်သည်မဟုတ်လော၊

ထို့ကြောင့် မိုလ် ချုပ် အရာ ကို ရ၏။ သို့သော်
၂၀ လည်း၊ပဌမသူရဲသုံးယောက်တို့ကိုမမှီ။- အထူး
အဖြင့်ပြုဘူးသောကပ်ဇေလမြို့သားသူရဲဝေါ
ယဒ၏သားဗေနာယသည်လည်း၊ ရှင်သေ့နှစ်ယူ
သောမောဘလူနှစ်ယောက်ကိုသတ်၏။ ဆောင်း
ကာလ၌လည်း အခြားသို့သွား၍မြေတွင်း၌ရှိ
၂၁ သော ရှင်သေ့ကို သတ် ၏။- ထူး ခြား သော အဲ
ဂုတ္တုလူကိုလည်းသတ်၏။ အဲဂုတ္တုလူသည်လှံ
ကိုကိုင်သော်လည်း၊ ဗေနာယသည်တောင်ဝေး
ကိုသာကိုင်လျက် သွား၍၊ အဲဂုတ္တုလူလက်မှလှံ
၂၂ ကိုလုယူပြီးလျှင်၊ ထိုလှံနှင့် သူကိုသတ်၏။- ထို
သို့သော အမှုတို့ကို ယောယဒသား ဗေနာယပြု
၂၃ ၍သူရဲ သုံးယောက်အဝင် နေရာကိုရ၏။- မိုလ်
များထက်သာ၍မြတ်သော်လည်း၊ပဌမသူရဲသုံး
ယောက်တို့ကိုမမှီ။ ဒါဝိဒ်သည်အတွင်းဝန်ချုပ်
၂၄ အရာ ကိုလည်းပေး၏။- ယွာဘညီ အာသဟေ
လသည်လည်း၊ မိုလ်စု အဝင် ဖြစ်၏။ ထိုအထူး
၂၅ ဗက်လင်မြို့နေ၊ဒေါဒေါ၏သား၊ဧလဟာနန်၊- ဟ
၂၆ ရောဒ်အမျိုး၊ရှမ္မ၊ဟာရောဒ်အမျိုးဧလိက၊-ပါလ
တိအမျိုး၊ဟေလက်၊ တေကောအမျိုး ဣကေရှ၏
၂၇ သား၊ဣရ၊-အနေသောသိအမျိုး၊အဗျေဇာ၊ ဟုရှ
၂၈ သိအမျိုး၊မေဗုန္နဲ၊- အဟောဟိအမျိုး၊ ဇာလမုန်၊
၂၉ နေတောဖာသိအမျိုး၊မဟာရဲ၊-နေတောဖာသိအ
မျိုး၊ဗာနာသား၊ဟေလက်၊ ဗယာမိန်အမျိုး၊ဂိဗာ
၃၀ မြို့နေ၊ရိဘဲ၏သား၊ဣတ္တဲ၊- ပိရသောနိအမျိုး၊ဗေ
၃၁ နာယ၊ ဂါရှချိုင့်သား ဟိဒ္ဒဲ၊- အာဗသိအမျိုး၊ အ
၃၂ ဗျာလဗုန်၊ ဗာဟုမိအမျိုး၊အာဇမာဝက်၊-ရှာလ
ဗောနိ အမျိုး၊ ဧလျာဘ၊ ယာရှင်၏ သား တို့တွင်
၃၃ ယောနသန်၊-ဟာရရိအမျိုး၊ရှမ္မ၊ဟာရရိအမျိုး၊
၃၄ ရှာရ၏သား၊အဟိအံ၊- မာခါသိအမျိုး၊အဟသ
ဘဲ၏သား ဧလိဖလက်၊ ဂိလောနိ အမျိုး အဟိ
၃၅ သောဖေလ၏သား၊ဧလျံ၊- ကရမေလအမျိုး၊ဟေ
၃၆ ဇရဲ၊အာဘိအမျိုး၊ဖာရဲ၊-ဇောဘာအမျိုး၊နာသန်
၃၇ ၏သား၊ဣဂါလ၊ဂဒ်အမျိုး၊ဗာနိ၊- အမ္မုန်အမျိုး၊
ဇေလက်၊ ဇေရုယာ၏သား၊ယွာဘ၏လက်နက်
၃၈ ဆောင် လုလင် ဗေရောသိ အမျိုး နဟာရဲ၊- ဣ
၃၉ သရိအမျိုး၊ဣရ၊ ဣသရိအမျိုး၊ဂါရက်၊- ဟိတ္တိ
အမျိုး၊ ဥရိယ၊ ပေါင်းသုံးဆယ် ခုနစ် ယောက်
တည်း။

## ၂၄

၁ ၊နောက်တဖန်၊ ထာဝရ ဘုရားသည် ဣသရေ
လအမျိုးကို အမျက်ထွက် တော်မူလျှင်၊ ဒေါသန်

သည်ရန်ထက်ပြု၍၊ ဣသရေလလူနှင့်ယုဒလူတို့
ကိုရေတွက်စေခြင်းငှါ၊ ဒါဝိဒ်ကိုတိုက်တွန်းတော
၂ မူ၏။-ရှင်ဘုရင်ကလည်း၊လူပေါင်းမည်မျှရှိသည်
ကိုငါသိမည်အကြောင်း၊ ဒန်မြို့မှသည်ဗေရရှေ
ဗမြို့တိုင်အောင် ဣသရေလအမျိုး ရှိသမျှတို့ကို
ရှောက်သွား၍၊ လူတို့ကိုရေတွက်လော့ဟု၊ အ
ထံတော်၌ရှိသောဗိုလ်ချုပ်မင်း ယွာဘအားမိန့်
၃ တော်မူ၏။- ယွာဘကလည်း၊ ကိုယ်တော်၏
ဘုရား ထာဝရဘုရားသည် လူတို့ကိုထပ်
၍ အဆအရာ တိုးပွားစေသဖြင့်၊ ကျွန်တော်သ
ခင်အရှင်မင်းကြီးမြင်မည်အကြောင်းဖြစ်တော်မူ
ပါစေသော၊သို့ရာတွင်၊ ကျွန်တော်သခင်အရှင်
မင်းကြီးသည် ဤအမှုကို အဘယ်ကြောင့် နှစ်
သက်တော်မူသနည်းဟုရှင်ဘုရင်အားလျှောက်
၄ သော်၏။- သို့သော်လည်း၊ အမိန့်တော်သည် ယွာ
ဘစကားနှင့်ဗိုလ်များစကားကိုနိုင်သဖြင့်၊ ယွာ
ဘနှင့် ဗိုလ်များတို့သည် လူတို့ကို ရေတွက်ခံ့
၅ သောငှါ အထံတော်မှ ထွက်သွားကြ၏။- ယော်
ဒန်မြစ်ကိုကူး၍ဂဒ်မြို့နှင့်ရှိသော အာရော်မြို့အ
၆ ရှေ့ထက်၊ ယာဇာမြို့အနားမှာ တပ်ချကြ၏။- ဂိ
လဒ်ပြည်၊ နောက် ထိမ်း သော ပြည်၊ ဒန်ယာန်
ပြည်တို့ကိုလွန်ပြီးမှဇိဒုန်ပြည်သို့ပိုင်းသွား၍-
၇ တုရုရဲတိုက်သို့၎င်၊ ဟိဝိမြို့များ၊ ခါနာန်မြို့များ
အလုံးစုံ တို့သို့၎င်ရောက်၍၊ ယုဒပြည်တောင်
၈ ပိုင်းဗေရရှေဘမြို့၌ ထက်စသတ်ကြ၏။- ထိုသို့
တပြည်လုံး ရှောက်သွား၍၊ ကိုးလနှင့် အရက်
နှစ်ဆယ်လွန်မှယေရုရှလင်မြို့သို့ရောက်ကြ၏။-
၉ ယွာဘသည်လည်း၊လူပေါင်းစာရင်းကိုရှင်ဘုရင်
အားဆက်၍၊ဣသရေလအမျိုး၌ထားကိုင်သူရဲ
ရှစ်သိန်း၊ယုဒအမျိုး၌ငါးသိန်းရှိကြ၏။
၁၀ ဒါဝိဒ်သည်လူတို့ကိုရေတွက်ပြီးမှ နောင်တရ
၍၊ အကျွန်ုပ်ပြုမိသောအမှု၌ အလွန်ပြစ်မှားပါ
ပြီ။အိုထာဝရဘုရား၊ ကိုယ်တော်ကျွန်၏အပြစ်
ကိုဖြေ ရှင်း တော်မူပါ။ အကျွန်ုပ်သည် အလွန်
မိုက်သော အမှုကို ပြုမိပါပြီဟု ထာဝရဘုရား
၁၁ အား လျှောက်ပန်လေ၏။- ဒါဝိဒ်သည်နံနက်အ
ချိန် ၌ ထသော အခါ၊ ထာဝရ ဘုရား ၏ နှုတ်က
ပတ်တော်သည်ဒါဝိဒ်၏ပရောဖက်ဂဒ်သို့ရောက်
၁၂ လာ၍-ဒါဝိဒ်ထံသို့သွားလော့၊ အရာသုံးပါးကို
သင့်အားငါပြ၏၊ ထိုအ၌ငါပြုစရာကို တပါးပါး
ကိုရွေးရမည်ဟု၊ ထာဝရဘုရား၏ အမိန့်တော်
ကိုသင့်ဆိုလော့ဟု မိန့်တော်မူသည် အတိုင်း၊-
၁၃ ဂဒ်သည် ဒါဝိဒ်ထံသို့သွား၍၊ ပြည်တော်၌ ခုနစ်
နှစ်ပတ်လုံး၊အစာအာဟာရခေါင်းပါးစေရမည်
လော၊သို့မဟုတ်၊ ရန်သူတို့သည်သုံးလပတ်လုံး
လိုက်၍ကိုယ်တော်ပြေးတော်မူရမည်လော၊သို့
မဟုတ်၊ပြည်တော်၌သုံးရက်ပတ်လုံးကာလနာ
ရောက် စေရမည် လော၊ အကျွန်ုပ်ကို စေလွှတ်
တော်မူသော သူအား၊ အကျွန်ုပ်သည် အဘယ်
သို့ ပြန် လျှောက် ရမည်ကို စဉ်းစား ဆင် ခြင်
၁၄ တော်မူပါဟုလျှောက်လေ၏။- ဒါဝိဒ်ကလည်း၊
ငါသည် ကျဉ်းမြောင်းရာသို့ ရောက်လေပြီတ
ကား၊ ထာဝရဘုရား၏လက်တော်သို့ရောက်ပါ
စေ၊ ကရုဏာ တော် ကြီး လှ ၏၊ လူ လက် သို့ မ
ရောက်ပါစေနှင့်ဟုဂဒ်အားပြန်ပြော၏။
၁၅ ထိုနေ့ နံနက်မှစ၍ ချိန်းချက်သော အချိန် တိုင်
အောင်၊ထာဝရဘုရားသည်ဣသရေလအမျိုး၌
ကာလနာကိုလွှတ်လိုက်တော်မူ၍၊ဒန်မြို့မှသည်
ဗေရရှေဘမြို့ တိုင်အောင် လူ ခုနှစ်သောင်း သေ
၁၆ ကြ၏။- ကောင်းကင်တမန်သည်ယေရုရှလင်မြို့
ကိုဖျက်ဆီးမည်ဟု၊ လက်ကို ဆန့်သောအခါ၊
ထာဝရဘုရားသည် ထိုဘေးကြောင့် နောင်တရ
တော်မူ၍တန်ပြီ၊ သင့်လက်ကို ရုပ်သိမ်း လော့
ဟု၊ လူတို့ကို ဖျက်ဆီးသော ကောင်းကင် တမန်
အား မိန့်တော်မူ၏၊ ထိုအခါ ထာဝရ ဘုရား၏
ကောင်းကင်တမန်သည် ယေဗုသိလူအာရောနာ၏
၁၇ ကောက်နယ်တလင်း အနားမှာရှိ၏။- လူတို့ကို
ဒါဏ် ခတ် သော ကောင်း ကင်တမန်ကို ဒါဝိဒ်
သည်မြင်သောအခါ၊အကျွန်ုပ်ပြစ်မှားပါပြီ၊ရစ
ရိုက်ကို ပြုမိပါပြီ၊ ဤသိုးတို့မူကား၊ အဘယ်သို့
ပြုမိပါသနည်း။ လက်တော်သည် အကျွန်ုပ်နှင့်
အကျွန်ုပ် အဆွေအမျိုး၌ ရောက်စေတော် မူပါ
ဟု၊ထာဝရဘုရားအားလျှောက်ပန်လေ၏။
၁၈ ထိုနေ့ ချင်းတွင်၊ ဂဒ်သည် ဒါဝိဒ် ထံသို့လာ၍၊
ကိုယ် တော် ကြွ ပါ၊ ယေဗုသိ လူ အာရောနာ ၏
ကောက်နယ်တလင်း၌ထာဝရဘုရားအားယဇ်
၁၉ ပလ္လင်ကို တည်ရမည်ဟု၊- ထာဝရ ဘုရား၏အ
မိန့်တော်ကို ထင့်ဆိုသည် အတိုင်း၊ ဒါဝိဒ် ထသွား
၂၀ သွား လေ၏။- ထိုသို့ရှင် ဘုရင်သည် အစေအပါး
တော် နှင့် တကွ ကြွလာ သည်ကို အာရောနာသည်
ကြည့်၍မြင်လျှင်၊ ပြင်သို့ထွက်၍၊ ရှင်ဘုရင်ရှေ့
၂၁ တော်၌ဦးချပြပ်ဝပ်လျက်- ကျွန်တော်သခင်အ
ရှင် မင်း ကြီးသည် ကိုယ်တော် ကျွန် ရှိရာသို့ အ
ဘယ် ကြောင့် ကြွလာ တော် မူသနည်းဟု အား

လျှောက်လျှင်၊ ဒါဝိဒ်က၊ လူတို့တွင် ကာလနာ
ဘေးကိုငြိမ်းစေမည်အကြောင်း၊ ထာဝရဘုရား
အဘို့ယဇ်ပလ္လင်ကိုတည်လို၍၊ သင်၏ကောက်
နယ်တလင်းကိုဝယ်ထံ့သောငှါလာသည်ဟုအ
၂၂ မိန့်ရှိတော်-အာရောနက၊ ကျွန်တော်သခင်အရှင်
မင်းကြီးသည်မိတ်တော်ရှိသည်အတိုင်းယူ၍ပူ
ဇော်တော်မူပါ။ မီးရှို့ရာယဇ်ဖို့ နွားများရှိပါ
၏၊ ထင်းအို့ ကောက်နယ်တန်ဆာ၊ နွားနှင့်ဆိုင်
သောတန်ဆာများရှိပါ၏ဟု ဒါဝိဒ်အားလျှောက်
၂၃ လျှက်- အလုံး စုံတို့ကို ရှင်ဘုရင်အား ဆက်၍၊
ကိုယ်တော်၏ ဘုရားသခင် ထာဝရဘုရားသည်
ကိုယ်တော်ကို ထတ်ခံတော် မူပါစေသော ဟု
၂၄ လျှောက်လေ၏။-ရှင်ဘုရင်ကလည်း၊ ထိုသို့ငါမ
ပြုရ။ စင်စစ်အဘိုးပေး၍ငါဝယ်မည်။ ကိုယ်ငွေ
မကုန်ဘဲ ငါ၏ ဘုရားသခင် ထာဝရ ဘုရားအား
မီးရှို့ရာယဇ်ကို ငါမပူဇော်လိုဟု အာရောနအား
ဆိုသဖြင့်၊ ငွေအကျပ် ငါးဆယ်ကိုပေး၍၊ ထို
ကောက်နယ် တလင်းနှင့် နွားတို့ကို ဝယ်ပြီးမှ-
၂၅ ထို အရပ် ၌ ထာဝရ ဘုရား၊ အဘို့ ယဇ် ပလ္လင်
ကို တည်၍ မီးရှို့ရာ ယဇ်၊ မိဿ ဟာသ ယဇ်
တို့ကို ပူဇော်လေ၏၊ထာဝရဘုရားသည်လည်း။
ရှုထရေထ ပြည် အဘို့ ဆု တောင်း သော စကား
ကို နား ထောင် ၍ ကာလ နာ ဘေး ကို ငြိမ်း စေ
တော်မူ၏။

ဓမ္မရာဇဝင်ဒုတိယစောင်ပြီး၏။

---

# ဓမ္မရာဇဝင်တတိယစောင်။

## FIRST BOOK OF THE KINGS

### ၁

၁ ဒါဝိဒ် မင်း ကြီး သည် အသက် ကြီး ရင့် ၍ အို
၂ သောအခါ၊ အဝတ်ခြုံ၍မနွေးနိုင်။- သို့ဖြစ်၍၊
ကျွန်တို့ကအသက်ပျိုသောကညာကိုအရှင်မင်း
ကြီးအဘို့ရှာပါရစေ။ သူသည် မင်းကြီးကို ခစား
၍ပြုစုပါစေ။ အရှင် မင်းကြီး ကို နွေးစေ ခြင်းငှါ
၃ ရင်ခွင်တော်၌ အိပ်ပါစေဟုလျှောက်ကြ၏။-ထို
သို့နှင့်အညီအဆင်း လှသောအပျိုမကို ဣသရေ
လပြည် တရှောက်လုံးတွင် ရှာ၍၊ ရှုနင်မြို့သူ အ
ဘိရှက်ကိုတွေ့သဖြင့်အထံတော်သို့ဆောင်ခဲ့ကြ
၄ ၏။-ထိုမိန်းသည်အလွန်အဆင်းလှ၏။ ရှင်ဘုရင်
ကိုလည်းလုပ်ကျွေးပြုစုလေ၏။ သို့ရာတွင်၊ ရှင်
ဘုရင်သိမ်းတော်မမူ။
၅ ထိုနောက်၊ ဟဂ္ဂိတ်သား အဒေါနိယသည်ရှင်
ဘုရင် လုပ်မည်ဟု အကြံရှိလျက်၊ ကိုယ်ကိုချီး
မြှောက်၍ ရထားများနှင့် မြင်းများကိုရင်၊ မိမိ
ရှေ့၌ပြေးရသောလူငါးဆယ်ကိုရင်ဖွင့်ဆင်လေ
၆ ၏။-ခမည်းတော်က၊ သင်သည်အဘယ်ကြောင့်
ဤသို့ပြုသနည်းဟု၊ သူမိတ်နာစေခြင်းတခါမျှမ
ပြောဖူး။ ထိုသူသည် အဆင်းလည်း အလွန်လှ
၇ ၏၊ အဗရှလုံညီလည်းဖြစ်၏။- သူသည် ဇေရု
ယာသား ယွာဘ၊ ယဇ်ပုရောဟိတ် အဗျာသာနှင့်
တိုင်ပင်၍၊ သူတို့သည် အဒေါနိယထက်မှာ နေ
၈ ကြ၏။- ယဇ် ပုရောဟိတ် ဇာဒုတ်၊ ယောယဒ
သားဗေနာယ၊ ပရောဖက်နာသန်၊ ရှိမိ၊ ရေရှုအ
စရှိသောဒါဝိဒ်၏မှူးကြီးမတ်ကြီးများမူကား၊ အ
၉ ဒေါနိယထက်သို့ မဝင်ကြ။- အဒေါနိယသည်
အင်ရောဂေလ မြို့နယ် အတွင်း၊ ဇောဟေလတ်
ကျောက်နား မှာသိုး၊ နွားမှစ၍ ဆူဖြိုးသောအ
ကောင်တို့ကို သတ်ပြီးလျှင်၊ ရှင်ဘုရင်သား မိမိ
ညီများနှင့်ရှင်ဘုရင်၏ကျွန်ယုဒလူများအပေါင်း
၁၀ တို့ကိုခေါ်ဖိတ်လေ၏။-ပရောဖက်နာသန်၊ ဗေနာ
ယ၊ မှူးကြီးမတ်ကြီးမှစသော ညီရှောလမုန်ကို
ကား မခေါ်မဖိတ်။
၁၁ ထိုအခါ နာသန်သည် ရှောလမုန် အမိ ဗာသ
ရှေဘထံသို့သွား၍၊ ဟဂ္ဂိတ်၏သား အဒေါနိယ
သည်ရှင်ဘုရင်လုပ်ကြောင်းကို ကြားပြီလော။
၁၂ ထိုအရှင်ဒါဝိဒ်သည် မသိပါတကား။- အစုမှာ

သင်၏အသက်နှင့်ရှောလမုန်၏ အသက်ကိုချမ်း
သာစေခြင်းငှါ၊ ကျွန်ုပ်သည်အကြံပေးပါရစေ။-
၁၃ ဒါဝိဒ်မင်းကြီး ထံတော်သို့ဝင်၍၊ အိုအရှင်မင်း
ကြီး၊ကိုယ်တော်ကသင်၏သားရှောလမုန်သည်
ငါ့အရာ၌ မိုးစံ၍နန်းထိုင်ရမည်ဟု၊ ကိုယ်တော်
ကျွန်မအားကျိန်ဆိုတော်မူပြီ မဟုတ်လော၊သို့
ဖြစ်လျှင်၊ အဒေါနိယသည် အဘယ်ကြောင့်မိုး
၁၄ စံရပါသနည်းဟု လျှောက်လော့။- ထိုသို့အထံ
တော်၌ လျှောက်စဉ်တွင်၊ ကျွန်ုပ်ဝင်၍ သင်၏
စကားကိုထောက်မစည်ဟု အကြံပေးသည်အ
၁၅ တိုင်း၊- ဗာသရှေဘသည် ရှင်ဘုရင်မှိရာ အခန်း
ထဲသို့ဝင်လေ၏။ ရှင်ဘုရင်သည် အလွန်အိုမင်း၍ ရှု
နင်မြို့သူအဘိရှက်သည်လုပ်ကျွေးလျက်နေ၏။-
၁၆ ဗာသရှေဘ သည် ဦးချ၍၊ ရှင်ဘုရင်အား မှိခိုး
လျှင်၊ရှင်ဘုရင်က၊ အဘယ်အလို ရှိသနည်းဟု
၁၇ မေးတော်မူ၏။- ဗာသရှေဘကလည်း၊ ကျွန်မ
သခင်၊ ကိုယ်တော်က၊ သင်၏သား ရှောလမုန်
သည်ငါ့အရာ၌ မိုးစံ၍နန်းထိုင်ရမည်ဟု၊ ကိုယ်
တော်၏ဘုရားသခင်ထာဝရဘုရားကိုတိုင်တည်
၍၊ ကိုယ်တော်ကျွန်မအားကျိန်ဆိုတော်မူပြီ။-
၁၈ ယခုမှာအဒေါနိယသည်မိုးစံပါ၏။ ကိုယ်တော်
၁၉ အရှင်မင်းကြီးလည်း၊ သိတော်မမူ။- အဒေါနိယ
သည်သိုးနွားမှစ၍ဆူဖြိုးသော အကောင်များ
ကိုသတ်ပြီးလျှင်၊ မင်းကြီး၏ သားတော်အ
ပေါင်းတို့နှင့်တကွ ယဇ်ပုရောဟိတ် အဗျာသာ၊
စစ်သူကြီးယွာဘတို့ကိုခေါ်ဖိတ်ပါ၏။ ကိုယ်
တော်ကျွန်ရှောလမုန်ကို ကားမခေါ်မဖိတ်ပါ။-
၂၀ အိုအရှင်မင်းကြီး၊ ကျွန်မအရှင်မင်းကြီး၏အရာ
၌မိုးစံ၍၊အဘယ်သူသည်နန်းထိုင်ရမည်ကိုမိန့်
တော်မူမည်ဟု၊ဣသရေလအမျိုးသားအပေါင်း
တို့သည်ကိုယ်တော်ကို မျှော်ကြည့်လျက်နေကြ
၂၁ ပါ၏။- သို့မဟုတ်၊ ကျွန်မအရှင် မင်းကြီးသည်
ဘိုးတော် ဘေးတော်တို့ နှင့် အတူ ကျိန်းစက်
တော်မူသောအခါ၊ ကျွန်တော်မနှင့်သား ရှော
လမုန်သည် ရာဇဝတ် ခံရသော သူ ဖြစ်ပါလိမ့်
၂၂ မည်ဟု လျှောက် လေ၏။- ထိုသို့ အထံ တော်၌
လျှောက် စဉ်တွင်၊ ပရောဖက် နာသန်သည် ဝင်
လျှင်ပရောဖက်နာသန်လာပါသည်ဟု လျှောက်
၂၃ ကြ၏။-နာသန်သည်လည်း၊ရှေ့တော်သို့ရောက်
၂၄ သော အခါ ဦးချပြပ် ဝပ် လျက်- ဆို အရှင် မင်း
ကြီး၊ ကိုယ်တော်က၊ ငါ့အရာ၌ အဒေါနိယ မိုးစံ
၂၅ ၍နန်းထိုင်ရမည်ဟု မိန့်တော် မူသလော။- ယ

နေ့ ဆင်းသွား၍၊ ဆူဖြိုးသော သိုးနွား
များတို့ကို သတ်ပြီးလျှင်၊ မင်းကြီး၏ သားတော်
အပေါင်း တို့ကို၎င်း၊ စစ်သူ ကြီးများ နှင့် ယဇ်ပုရော
ဟိတ်အဗျာသာကို၎င်းခေါ်ဖိတ်ပါပြီ။သူတို့သည်
အဒေါနိယရှေ့မှာစားသောက်လျက်၊အဒေါနိယ
မင်းကြီးသည် အသက်တော်ရှင်စေသတည်းဟု
၂၆ ကြွေးကြော်လျက်ရှိကြပါ၏။- ကိုယ်တော်
ကျွန်အကျွန်ုပ်၊ယဇ်ပုရောဟိတ်ဇာဒုတ်၊ယော
ယဒသား၊ဗေနာယ၊ကိုယ်တော်ကျွန်ရှောလမုန်
၂၇ တို့ကိုကား မခေါ်မဖိတ်ပါ။- အရှင်မင်းကြီး၏
အရာ၌ အဘယ်သူ နန်း ထိုင် ရမည် ကို ကိုယ်
တော် ကျွန်တို့အား ပြတော် မမူဘဲ၊ ဤ အမှုကို အ
ရှင် မင်းကြီး၊ စီရင်တော် မူပြီလောဟု လျှောက်
လေ၏။
၂၈ ထိုအခါဒါဝိဒ်မင်းကြီးက၊ဗာသရှေဘကိုခေါ်
ခဲ့ပါဟု မိန့်တော် မူသည်အတိုင်း၊ ဗာသရှေဘ
၂၉ သည်လာ၍ရှေ့တော်၌ရပ်နေ၏။- ရှင်ဘုရင်က
လည်း၊ ငါ့အသက် ကို ခပ်သိမ်းသော
ဒုက္ခထဲက ကယ်နှုတ် တော် မူသော ထာဝရ
၃၀ ဘုရား အသက်ရှင်တော်မူသည်အတိုင်း၊-သင်၏
သားရှောလမုန်သည် ငါ့အရာ၌မိုးစံ၍၊ ငါ့ကိုယ်
စား နန်း ထိုင် ရ မည် ဟု၊ ဣသရေလ အမျိုး၏
ဘုရား သခင် ထာဝရ ဘုရားကို ငါတိုင်တည်၍
သင့်အား ကျိန်ဆိုသည်နှင့် အညီ၊ ယနေ့ ငါပြု
၃၁ မည်ဟု၊ တဖန်ကျိန်ဆိုတော်မူ၏။- ဗာသရှေဘ
သည် ဦးချ ပြပ်ဝပ်လျက်၊ ရှင်ဘုရင် အား မှိခိုး
လျက်၊ အရှင်ဒါဝိဒ်မင်းကြီးသည် အသက်တော်
၃၂ အစဉ် အမြဲ ရှင်စေ သတည်းဟု မြွက်ဆို၏။- ဒါ
ဝိဒ်မင်းကြီးကလည်း၊ ယဇ်ပုရောဟိတ်ဇာဒုတ်၊
ပရောဖက်နာသန်၊ ယောယဒသား ဗေနာယတို့
ကိုခေါ်ခဲ့ပါဟုမိန့်တော်မူသည်အတိုင်း၊ သူတို့
၃၃ သည်ရှေ့တော်သို့ ဝင်လာကြ၏။- ရှင်ဘုရင်က
လည်း၊ သင်တို့ အရှင်၏ ကျွန် များ ကို ခေါ်၍၊
ငါ့သား ရှောလမုန်ကို ငါ၏ မြင်းလားမတော် ပေါ်
မှာ စီးစေ လျက်၊ ဂိဟုန် မြို့ သို့ ဆောင် သွားကြ
၃၄ လော့။- ယဇ်ပုရောဟိတ်ဇာဒုတ်နှင့်ပရောဖက်
နာသန်သည်ထိုမြို့မှာဘိသိက်ပေး၍၊ ဣသရေ
လရှင်ဘုရင်အရာ၌ ချီးမြှောက် ပြီးလျှင်၊ တံပိုး
မှုတ်၍ ရှောလမုန်မင်းကြီးသည် အသက်တော်
၃၅ ရှင်စေ သတည်းဟု ကြွေးကြော်ကြလော့။- ထို
နောက်၊သင်တို့လိုက်လျက်၊ငါ့သားသည်လာ၍
နန်း ထိုင် ရမည်။ ငါ့ကိုယ်စား ရှင်ဘုရင် ဖြစ်ရ

ဖြစ်။နှင့်ထရံကို အာရဇ်ပျဉ်ပြားဖြင့် ဖြ
၁၇ ၏- ထိုအခန်း ရှေ့မှာ တည်သော ဗိမာန်
တော်အလျားသည် အတောင်လေးဆယ်ရှိ၏-
၁၈ အိမ်တော်အတွင်း၌ အာရဇ်ပျဉ်ပြားထို့သည်၊
ဘူးသီးအပြောက်၊ ပန်းပွင့်အပြောက်နှင့်ပြည့်
စုံကြ၏၊ကျောက်မပေါ်စေခြင်းငှါ၊အာရဇ်သား
နှင့်ဖုံးအုပ်လျက်သာရှိ၏။
၁၉ ထိုသို့ထာဝရဘုရား၏ ပဋိညာဉ်သစ်တာတော်
ကိုတင်ထားရန်၊ အိမ်တော် အတွင်း၌ ဗျာဒိတ်
၂၀ ဌာနတော်ကိုပြင်ဆင်လေ၏-ဗျာဒိတ်ဌာနတော်
အခန်းသည် အလျားအတောင်နှစ်ဆယ်၊ အနံ
အတောင် နှစ်ဆယ်၊ အမြင့်အတောင် နှစ်ဆယ်
ရှိ၏၊ထိုအခန်းကိုငင်၊အာရဇ်သစ်သားနှင့်လုပ်
သော ထဂ်ပလ္လင်ကိုငင်၊ ရွှေစင်နှင့် မွမ်းမံလေ
၂၁ ၏-ထိုသို့အိမ်တော်အတွင်းကိုရွှေစင်နှင့်မွမ်းမံ
ပြီးမှ၊ ဗျာဒိတ် ဌာနတော်ရှေ့မှာ ရွှေကြိုးဖြင့် အ
ကွယ်အကာကိုဆွဲထား၍၊ရွှေနှင့်မွမ်းမံလေ၏-
၂၂ အိမ်တော်တအိမ်လုံးကိုငင်၊ဗျာဒိတ်ဌာနတော်
နားမှာရှိသောယဂ်ပလ္လင်ကိုငင်၊ ရွှေနှင့်အကုန်
၂၃ အစင်မွမ်းမံလေ၏- ဗျာဒိတ်ဌာနတော်ထဲမှာအ
မြင့် ဆယ်တောင်ရှိသော ခေရုဗိမ် နှစ်ပါးကို သံ
၂၄ လွင်သားနှင့်လုပ်လေ၏-ခေရုဗိမ်အတောင်တို့
သည်တဖက်တချက်အလျားငါးတောင်စီရှိ၍၊အ
တောင်များ တခုမှတခုတိုင်အောင် ဆယ်တောင်
၂၅ ရှိ၏-အမြင့်ဆယ်တောင်ရှိသည်ဖြစ်၍၊ခေရုဗိမ်
၂၆ နှစ်ပါးသည်အလုံးအရပ်ပမာဏကူ၏-ထိုခေ
ရုဗိမ်တို့ကို အတွင်း အိမ်တော်ထဲမှာ တင်ထား
သဖြင့်၊ခေရုဗိမ်အတောင်တို့သည်ဖြန့်လျက်၊အ
တောင်များ တဖက်တချက်၌ထရံကိုထိလျက်၊အ
လယ်မှာအတောင်များ တခုနှင့်တခုထိလျက်ရှိ
၂၇ ကြ၏- ခေရုဗိမ်တို့ကိုလည်း ရွှေနှင့်မွမ်းမံလေ
၂၈ ၏-အိမ်တော်ထရံအတွင်းဘက်နှင့်ပြင်ဘက်၌
ထုသောခေရုဗိမ်အရုပ်နှင့်အပွင့်ပွင့်သောစွန်ပ
၂၉ လွံပင် အရုပ်များရှိကြ၏- အိမ်တော် အတွင်း
ကြမ်းနှင့်ပြင်ကြမ်းကိုလည်း၊ ရွှေနှင့်မွမ်းမံလေ
၃၀ ၏- ဗျာဒိတ်ဌာနတော်ဝင်ဝတို့ သံလွင်သားတံ
ခါးရွက် နှစ်ရွက်ကို လုပ်၍၊ တံခါးထုပ်နှင့် တံ
ခါးတိုင် တို့သည် ထရံ ငါးစုတစုကို စားကြ၏-
၃၁ သံလွင်သားတံခါးရွက်တို့၌ခေရုဗိမ်အရုပ်၊ အ
ပွင့်ပွင့်သော စွန်ပလွံပင် အရုပ် များကို ထုလုပ်
၍၊ တံခါးရွက်နှင့်ခေရုဗိမ်အရုပ်၊ စွန်ပလွံပင်
၃၂ အရုပ်တို့ကိုရွှေနှင့်မွမ်းမံလေ၏- ထိုအတူအိမ်
တော်ပြင်ထရံလေးစုတစု၊ ကျယ်သောဝင်ဝအို
၃၃ သံလွင်တံခါးတိုင်တို့ကိုငင်-တံခါးရွက်အရွက်
လှည့်ပတ်ဘာနှစ်ခုစီဖြင့်လည်တတ်သောထင်းရူး
သား တံခါးရွက် နှစ်ရွက်တို့ကိုငင် လုပ်လေ၏-
၃၄ တံခါးရွက်၌ ခေရုဗိမ်အရုပ်နှင့် အပွင့်ပွင့်သော
စွန်ပလွံပင်အရုပ်များကိုထုလုပ်၍အပြောက်ကို
၃၅ ရွှေနှင့် မွမ်းမံလေ၏- အတွင်း တနံ တိုင်းကို
လည်း ဆစ်သော ကျောက်တန်း သုံးဆင့်၊ အာ
ရဇ်သစ်သားတန်းတဆင့်နှင့်အထပ်ထပ်တည်
၃၆ ထေ၏- နန်းစံ လေး နှစ်၊ ဇိဝထ တွင် ထာဝရ
၃၇ ဘုရား၏အိမ်တော်တိုက်မြစ်ကိုချကြ၍- နန်းစံ
ဆယ်တနှစ်၊ဗုလအမည်ရှိသောအဋ္ဌမလတွင်၊
အိမ်တော်အခန်းကြီး အခန်းငယ်တို့နှင့်ဆိုင်သ
မျှတို့ကိုလက်စသတ်၍၊ ခုနှစ်နှစ်ပတ်လုံး အိမ်
တော်ကိုတည်ဆောက်သတည်း။

၇

၁ တဖန် ရှောလမုန်သည် တဆယ်သုံးနှစ်ပတ်
လုံး နန်းတော်ကို တည်ဆောက်၍ ထက်စသတ်
၂ ထေ၏- နန်းတော်ကို လေဗနုန်တောသစ်သား
ဖြင့်ဆောက်၍၊ အလျားအတောင်တရာ၊ အနံအ
တောင်ငါးဆယ်၊ အမြင့်အတောင် သုံးဆယ်ရှိ
၏၊ အာရဇ်တိုင်လေးစည်၊ အာရဇ်ရက်မများ
၃ နှင့်ဆောက်၏-တိုင်တစည်လျှင်ဆယ်ငါးတိုင်
စီရှိ၍၊ တိုင်ပေါင်း ခြောက်ဆယ် အပေါ်မှာ အ
ခြင်တို့ကို တင်လျက်၊ အာရဇ်ပျဉ်ပြားနှင့် မိုး
၄ ထေ၏- အသင်း ဝင် စရာ ပြတင်း ပေါက် သုံး
တန်းစီ အဆင့်ဆင့် မျက်နှာချင်း ဆိုင်လျက်၊ တ
၅ ဖက်တချက်၌ရှိကြ၏- တံခါးပေါက်ရှိသမျှတံ
ခါးတိုင် ရှိသမျှတို့သည် စတုရန်း လေးထောင့်
၆ ဖြစ်ကြ၏-တိုင်များ၊ထုပ်ကြီးများနှင့်ပြည့်စုံ၍
အလျား အတောင်ငါးဆယ်၊ အနံအတောင်သုံး
ဆယ် ရှိသောကနားပြင်ကိုလည်း လုပ်လေ၏-
၇ တရားစီရင်ရာကနားပြင်တည်းဟူသောတရား
ပလ္လင် တည် ရာ ကနားပြင် ကို လည်း လုပ် ၍၊
ကြမ်း၊ တ ဖက် မှ တ ဖက် တိုင် အောင် အာ ရဇ်
၈ ပျဉ်ပြား တို့နှင့်မိုးထေ၏- နန်းတော်နှင့် ဆိုင်
သော ထိုကနားပြင်နှစ်ဆောင် စပ်ကြားမှာ တန်
တိုင်းထည်းရှိ၏၊ ရှောလမုန်စုံဝတ်သော ဖာရော
ဘုရင်၏သမီး စံနန်းကိုလည်း၊ တရားစီရင်ရာ က
၉ နားပြင် နှင့် တူ အောင် ဆောက် ထေ၏- ထင်
တိုင်းကြီးဖြစ်ထတ်တိုင်အောင်ဌင်၊ အမြစ်မှစ၍
ထိပ် တိုင်အောင်ဌင်၊ ကျောက်ဆစ် ပမာဏ နှင့်

အညီ၊ နှစ်ခေတ်ဆုံးအောင် နှုတ်ထိုက်သော ကျောက်၊
၁၀ ထူထဲသောကျောက်ဖြင့်မြစ်ချကြ၏။ အမြစ်
ထည့်သည်း အလျား ရှစ်တောင်၊ ဆယ်တောင်
ရှိသော ကျောက်၊ ထူထဲသော ကျောက်ကြီး
၁၁ ဖြင့်မြစ်ချ၏။- အမြစ်ပေါ်မှာ ထည်း ကျောက်
ဆစ်ပမာဏနှင့်အညီ ထုပ်သောကျောက်၊ ထူး
ထန်းသောကျောက်နှင့် အာရဇ်ကာကားရှိ၏။-
၁၂ တန်တိုင်း ကြီးသည် ဆစ်သော ကျောက်သုံး
တန်း၊ အာရဇ်သစ်ကြီးတတန်းဖြင့် ပြီး၏။ မိတ်
ရှင်တော် အတွင်းတန်တိုင်း၊ နန်းတော် ကနား
ဖြင်တန်တိုင်းထိုသည် ထိုအတူပြီးကြ၏။
၁၃ ရှောလမုန်သည်ထည်း၊ လူကိုစေလွှတ်၍ တုရု
၁၄ မြို့မှ ဟိရံကိုခေါ်ဆောင်၏။- ထိုဟိရံကား၊ နဿလိ
အမျိုး ရှိုးမယားဖြစ်၏။ သူ၏အဘကား၊ တုရု
အမျိုးသားပန်းတည်းသမားဖြစ်၏။ သားသည်
ထည်း ကြေးဝါအထုပ် ခပ်သိမ်းကို ထုပ်တတ်
သောဉာဏ်ပညာနှင့်ပြည့်စုံသဖြင့်၊ ရှောလ
မုန် မင်းကြီး ထံသို့လာ၍၊ အထုပ် ရှိသမျှကိုပြု
၁၅ ၏။ ခေ၏။-ထိုသူသည်အမြင့်တဆယ်ရှစ်တောင်၊
လုံးပတ်တဆယ်နှစ်တောင်ရှိသောကြေးဝါတိုင်
၁၆ နှစ်တိုင်ကို သွန်းလေ၏။- တိုင်အပေါ်မှာတင်
စရာဖို့၊ အမြင့်ငါးတောင်ရှိသော ကြေးဝါတိုင်
၁၇ ထိပ်နှစ်ခုကိုလည်း သွန်းလေ၏။- ကြေးဝါကွန်
ရွက်နှင့် ကြေးဝါကြိုးထိုက်ကိုလည်းလုပ်၍၊ တိုင်တ
တိုင်လျှင်ကွန်ရွက်ခုနှစ်ခုစီဖြင့်တိုင်ထိပ်အပေါ်
၁၈ မှာ စုံးထွမ်းလေ၏။- ကြေးဝါသလဲသီးကိုကို
လည်းလုပ်၍၊ တိုင်ထိပ်ကွန်ရွက်အပေါ်မှာထိပ်
တခုလျှင်သလဲသီးနှစ်တန်းစီဖြင့် တန်ဆာဆင်
၁၉ လေ၏။- ကနားဖြင်ထဲမှာ စိုက်ထားသော ထို
တိုင်ထိပ် ထိုသည် ကြာပွင့်နှင့် ပုံတူ၍ အမြင့်
၂၀ လေးတောင်ရှိ၏။- တိုင်ထိပ်နှစ်ခုထိုသည် ကွန်
ရွက် နှင့် နီးစပ်သော ဝမ်းဗိုက် အပေါ်မှာ တည်
လျှက်၊ တိုင်ထိပ်တခုစီ သလဲသီး နှစ်တန်းစီနှင့်
၂၁ အထုံး နှစ်ရာစီရှိကြ၏။- ထိုတိုင်တို့ကို မိတ်မှန်
တော် ကနားဖြင်ထဲမှာစိုက်ထား၍ လက်ျာတိုင်
ကိုယာခိန်၊ လက်ဝဲတိုင်ကိုဗောဇအမည်ဖြင့်မှည့်
၂၂ ခေါ်၏။- တိုင်ထိပ်အပေါ်မှာကြာပွင့်အဖြောက်
ရှိသည်ဖြစ်၍ တိုင်ထိုသည်ပြီးစီးကြ၏။
၂၃ အချွန်း ဆယ်တောင်၊ အဝန်း အတောင် သုံး
ဆယ်၊ အစောက်ငါးတောင်ရှိသောကြေးဝါရေ
၂၄ ကန်ကိုလည်းလုပ်လေ၏။- ရေကန်အနားပတ်
အောက်၊ ပတ်လည်၌ အဆောင်စီ တတောင်လျှင်

ဘူးသီး အသီးထုံးစီ ဝန်းရံ၍၊ ဘူးသီးနှစ်ပတ်
၂၅ ကိုရေကန်နှင့်တပြိုင်တည်းသွန်းလေ၏။-ထိုရေ
ကန်သည် နွား တဆယ်နှစ်ကောင်ပေါ်မှာ တည်
လျှက်ရှိ၏။ နွားထိုသည် အတွင်းသို့နောက်ပိုင်း
၍၊ အရှေ့အနောက် တောင်မြောက်အရပ်သော
မျက်နှာသို့၊ တမျက်နှာ လျှင် သုံး ခုစီ မျက်နှာ
၂၆ ပြုကြ၏။- ရေကန်သည်ဒုထက်တဝါးရှိ၏။ အ
ပေါ်အနားပတ်သည် ခွက်အနားပတ် ကဲ့သို့
ကြာ ပွင့် အဖြောက် နှင့် ပြည့်စုံ၏။ ရေမတ် နှစ်
ထောင်ဝင်၏။

၂၇ တခုအလျား လေးတောင်၊ အနံ လေးတောင်၊
အမြင့်သုံးတောင် ပမာဏရှိသော ကြေးဝါ ခုံတ
၂၈ ဆယ်ကိုလုပ်လေ၏။-ထိုခုံပုံသဏ္ဌာန်ဟူမူကား၊
ခုံ ပတ်လည်၌ အနားရစ် အဆင့်ဆင့်ရှိ၍ အနား
၂၉ ရစ်ကြားမှာ-ခြင်္သေ့၊ နွား၊ ခေရုဗိမ်အဖြောက်
ရှိ၏။ အနား ရစ် အပေါ်မှာ ခုံ တခု တင် လျှက်
ရှိ၏။ ခြင်္သေ့နှင့်နွားအောက်၌လည်း အဖြောက်
၃၀ ရိုးရှိ၏။- ခုံတခု၌ ကြေးဝါ ဘီး လေးခု
စီ၊ ကြေးဝါ ဝင်ရိုး နှင့် တကွ ရှိ၏၊ အင်တုံ ထင်
စရာထို့ ခုံ ထောင့်လေးထောင့် ၌ ပခုံးတို့ကိုခုံနှင့် တစပ်
၃၁ တည်းသွန်းလေ၏။- အင်တုံဝ၌ပါသော အကွပ်
သည် အကျယ်တတောင်ရှိ၏။ အဝသည်ဝိုင်း၍
အချင်းတတောင်ထွာရှိ၏။ ဝတွင်ရန်းထေးထောင့်
၃၂ ၌အဖြောက်နှင့်ပြည့်စုံ၏။- ဘီးလေးခုတို့သည်
ခုံမျက်နှာ အောက်မှာနေ၍ ကျ လျှက်၊ ဝင်ရိုးတို့
သည်ခုံနှင့်စပ်လျှက်၊ ဘီး၊ အမြင့်တတောင်ထွာရှိ
၃၃ ၏။- ဘီးပုံကား ရထားဘီးနှင့်တူ၏။ ဝင်ရိုး၊ ဝင်
ရိုးဖားမိ၊ အကန့်၊ အကွပ်များကို သွန်းလေ၏။-
၃၄ ခုံ ထောင့်လေးထောင့် ၌ တစပ်တည်း သွန်းသော ပခုံး
၃၅ လေးခုရှိသဖြင့်- ထိုပခုံးပေါ်မှာထုံးပတ်တထွာ
ရှိသောကွင်းကိုတပ်၍၊ ခုံပေါ်မှာအနားရစ်နှင့်
ကိုင်စရာများထိုကို ခုံနှင့်တစပ်တည်းသွန်းလေ
၃၆ ၏။- ကိုင်စရာမျက်နှာနှင့်ခုံမျက်နှာပြင်၌ ခေရု
ဗိမ်၊ ခြင်္သေ့၊ စွန်ပလွံပင် အစရှိသောအဖြောက်
၃၇ ရိုး အသီးသီး ထင်ပေါ်လျှက်ရှိ၏။- ထိုသို့ပုံ
သဏ္ဌာန်အတူ၊ အရပ်တူသောခုံ၊ အင်တုံတင်ရာ
၃၈ ခုံတဆယ်ကို သွန်း၍ ပြီးလေ၏။- အဝန်းလေး
တောင် ကျယ် ၍၊ ရေမတ် လေးဆယ် ဝင် နိုင်
သောကြေးဝါအင်တုံတဆယ်ကိုလည်းလုပ်၍၊
ခုံတခုပေါ်မှာအင်တုံတလုံးစီတင်ထားလေ၏။-
၃၉ အိမ်တော်လက်ျာဘက်၌ခုံငါးခု၊ လက်ဝဲဘက်၌
ငါးခုကိုထား၍ ရေကန်ကို ထား၏ အိမ်တော်

ထံ၌ကျွန်ုပ်၊ အစွန့်အဖျားအထောင့်အနေရာ၌၏။
၄၀ ထိုရံသည်အိုးများ၊ ရေမှုတ်များ၊ အင်တုံငယ်
များကိုလည်း လုပ်သဖြင့်၊ ရှောလမုန်မင်းကြီး
အဖို့၊ ထာဝရဘုရား၏အိမ်တော်၌ ထက်စသတ်
၄၁ သောအရာများ၊ တူမူထား။– တိုင်နှစ်တိုင်၊ တိုင်
ထိပ်အထွဋ်နှစ်ခု၊ တိုင်ထိပ်အထွဋ်ကိုဖုံးအုပ်
၄၂ စရာကွန်ရက်နှစ်ခု၊– ဖုံးအုပ်စရာကွန်ရက်
တခုကို အဖို့ သလဲသီး၊ နှစ်တန်းစီ၊ သလဲသီး
၄၃ ပေါင်းလေးရာ၊– ခုံအထည်ခု၊ ခုံပေါ်မှာ တင်ထား
၄၄ သောအင်တုံဆယ်လုံး၊– ရေကန်တကန်၊ ရေကန်
ကို ထောက်သော နွား တဆယ်နှစ်ခု၊ အိုးများ၊
၄၅ ရေမှုတ်များ၊ အင်တုံငယ်များတည်း။– ရှောလ
မုန်မင်းကြီးအဖို့၊ ဟိရံ လုပ်သမျှသော ထာဝရ
ဘုရား၏ အိမ်တော် တန်ဆာ တို့ သည် ပြောင်
ပြောင်တောက်သော ကြေးဝါ ဖြင့် ပြီး ကြ၏။–
၄၆ ယော်ဒန်မြို့နှင့်၊ သုကုတ်မြို့နှင့်ဇာသန်မြို့စပ်ကြား
တွင်၊ သရွတ်လုပ်စရာ ကောင်းသော မြေ၌ ရှင်
၄၇ ဘုရင် သွန်းလေ၏။– ထိုတန်ဆာ တို့သည် အ
လွန်များသောကြောင့်၊ ရှောလမုန်သည်မချိန်
ဘဲ သွန်းထား၏၊ ကြေးဝါ အချိန် ကို အဘယ်
သူမျှမသိ။
၄၈ ရှောလမုန် သည် လည်း၊ ထာဝရ ဘုရား၏
အိမ် တော် နှင့် ဆိုင် သမျှ သော တန် ဆာ များ
အဦး ဟူသောရွှေယဇ်ပလ္လင်၊ ရှေ့တော်မုန့်တင်
၄၉ စရာရွှေစားပွဲ၊– အတွင်းခန်းတော်ရှေ့၊ လက်ျာ
ဘက်၌ ရွှေဆီမီးခုံငါးခု၊ လက်ဝဲဘက်၌ငါးခု၊ ရွှေ
၅၀ ပန်းပွင့်၊ ရွှေမီးခွက်၊ မီးကိုင်တန်ဆာ၊– ရွှေစင်ဖြင့်
ပြီးသောခွက်များ၊ မီးညှပ်၊ လင်ပန်း၊ ဇွန်း၊ ပြာ
ခံစရာအိုးများ၊ အလွန်သန့်ရှင်းရာ ဌာနတော်အ
တွင်းခန်းတံခါးနှင့်ဗိမာန်တော်ပြင်ခန်းတံခါး
ရွက်ထားသော ရွှေပတ္တာများတို့ကို လုပ်လေ၏။–
၅၁ ထိုသို့ ရှောလမုန်မင်းကြီးသည် ထာဝရဘုရား
၏ အိမ်တော်အဖို့၊ ပြုလုပ်စီရင်သမျှ အလုံးစုံတို့
ကို ထက် စ သတ် ပြီးမှ၊ ခမည်း တော် ဒါဝိဒ် လှူ
သောရွှေ ငွေ တန်ဆာများကိုဆောင်ခဲ့၍၊ ထာဝ
ရဘုရား၏အိမ်တော် ဘဏ္ဍာစုထဲမှာသွင်းထား
လေ၏။

၈

ထိုအခါ ထာဝရဘုရား၏ ပဋိညာဉ်သေတ္တာ
တော်ကို မြို့တော်မည်သော ဒါဝိဒ်မြို့မှဆောင်ခဲ့ခြင်းငှာ
သောငှါ၊ ရှောလမုန်သည် ဣသရေလ အမျိုး၊ အ
သက်ကြီးသူအပေါင်းတို့နှင့်၊ ဣသရေလအနွယ်
အမျိုး၊ အသီးအသီးကို အုပ်သော ခေါင်းဆောင်အ
ပေါင်းတို့ကိုယေရုရှလင်မြို့၊ ရှင်ဘုရင်ထံသို့ခေါ်
၂ တော်မူသည်အတိုင်း– ဣသရေလလူ အပေါင်း
တို့သည် ဧသနိမ် အမည်ရှိသော သတ္တမလ၌
ပြုသောပွဲအတွင်းတွင် ရှောလမုန်မင်းကြီးထံ
၃ သို့စုဝေး ရောက်လာကြ၏။– ဣသရေလအမျိုး
တွင် အသက်ကြီးသူ အပေါင်းတို့သည် လာ၍၊
ယဇ်ပုရောဟိတ်တို့သည်လည်း၊ ထာဝရဘုရား
၄ ၏သေတ္တာတော်ကိုထမ်း၍– ပရိသတ်စည်း
ဝေးရာ တဲတော်၊ တဲ တော်နှင့် ဆိုင်၍ သန့်ရှင်း
သောတန်ဆာ အလုံးစုံတို့ကို၊ ယဇ်ပုရောဟိတ်
များနှင့် လေဝိ သား များ တို့သည် ဆောင်ခဲ့ကြ
၅ ၏။– ရှောလမုန် မင်းကြီးမှစ၍၊ စည်းဝေးသော
ဣသရေလ ပရိသတ် အပေါင်း တို့ သည် မရေ
တွက်နိုင်၊ အတိုင်းမသိများစွာသောသိုး နွားတို့
ကို သေတ္တာ တော် ရှေ့မှာ ယဇ် ပူဇော် ကြ၏။–
၆ ယဇ်ပုရောဟိတ်တို့သည်လည်း၊ ထာဝရဘုရား
၏ပဋိညာဉ်သေတ္တာတော်ကိုအိမ်တော်အတွင်း
သို့ သွင်း၍၊ အလွန်သန့်ရှင်းရာ ဌာန တည်းဟူ
သောဗျာဒိတ်ဌာနတော်ထဲမှာခေရုဗိမ်အတောင်
၇ တို့အောက်၊ သူ့နေရာ၌ထားကြ၏။– ခေရုဗိမ်တို့
သည် မိမိအတောင်နှစ်ဖက်ကိုသေတ္တာတော်နေ
ရာအပေါ်မှာဖြန့်၍၊ သေတ္တာတော်နှင့်ထမ်းပိုး
၈ တို့ကိုအုပ်၍ထားကြ၏။– ထမ်းပိုးတို့ကိုရှည်
ထားသဖြင့်ထမ်းပိုးဖျားတို့သည် ဗျာဒိတ်ဌာနရှေ့
တွင်၊ သန့်ရှင်းရာ ဌာန၌ ဗျာဒိတ်ဌာနတော်၌ထား
၉ ထိုနေ၌ ယနေ့တိုင်အောင်ရှိကြ၏။– ဣသရေလ
အမျိုးသားတို့သည်အဲဂုတ္တုပြည်မှထွက်၍၊ ထာ
ဝရ ဘုရားသည် သူတို့နှင့် ပဋိညာဉ် ဖွဲ့တော်မူ
သောအခါ၊ မောရှေသည် ဟောရပ် အရပ်၌ဖြို
ရည့်၊ သွင်းထားသော ကျောက်ပြား နှစ်ပြားမှ
တပါး၊ သေတ္တာတော်ထဲ၌အဘယ်အရာမျှမရှိ။
၁၀ ယဇ်ပုရောဟိတ်တို့သည်သန့်ရှင်းရာဌာနထဲ
က ထွက်ကြသောအခါ၊ ထာဝရဘုရား၏ အိမ်
၁၁ တော်သည်မိုဃ်းတိမ်နှင့်ပြည့်၏၊– ထိုသို့ထာဝ
ရဘုရား၏ အိမ်တော်သည် ဘုန်းတော်နှင့်ပြည့်
လျက်၊ မိုဃ်း တိမ် တော်ကြောင့်၊ ယဇ် ပုရော
ဟိတ်တို့သည် အမှုတော်ကို ဆောင်ရွက်လျက်
၁၂ ရပ်၍မနေနိုင်ကြ၊– ရှောလမုန်ကလည်း၊ ထာဝ
ရဘုရားသည်ထူထပ်သောမှောင်မိုက်ထဲမှာနေ
၁၃ တော်မူသည်ဟုမိန့်တော်မူ၏။– အကယ်စင်
စစ်၊ ကိုယ်တော်ကျိန်းဝပ်တော်မူရာအိမ်၊ အစဉ်

အစဉ်နေတော်မူရာ ဌာနတော်ကို အကျွန်ုပ်တည်
၁၄ ဆောက်ပါပြီဟု မြွက်ဆို၏။-တဖန်ရှင်ဘုရင်သည်
လှည့်ကြည့်၍၊ ဣသရေလအမျိုး ပရိသတ်အ
ပေါင်းကို ကောင်းကြီးပေးတော်မူ၏။ ဣသရေ
လအမျိုးပရိသတ်အပေါင်းတို့သည် မတ်တတ်
၁၅ နေကြ၏။- ရှင်ဘုရင်ကလည်း၊ ထာဝရဘုရား၏
၁၆ ဗျာဒိတ်တော်စကားဟူမူကား၊ ငါ၏လူဣသရေ
လအမျိုးသားတို့ကိုအဲဂုတ္တုပြည်မှနှုတ်ဆောင်
သောနေ့ကစ၍၊ ငါ့နာမတည်ရာအိမ်ကိုဆောက်
စေခြင်းငှါ၊ ဣသရေလခရိုင်များတို့တွင် မြို့တစုံ
တမြို့ကို ငါမရွေးသေးသော်လည်း၊ ငါ၏လူ ဣ
သရေလ အမျိုး သား တို့ကို အုပ်စိုး စေခြင်း ငှါ၊
ဒါဝိဒ်ကို ငါရွေးပြီဟု ခမည်းတော်ဒါဝိဒ်အား
ဗျာဒိတ်တော်ရှိသည်အတိုင်း၊ ပြုတော်မူသော
ဣသရေလအမျိုး၏ဘုရားသခင်ထာဝရဘုရား
၁၇ သည်မင်္ဂလာရှိတော်မူစေသတည်း။- ဣသရေ
လ အမျိုး၏ ဘုရားသခင် ထာဝရဘုရား၏ နာမ
တော် အမှီ၊ အိမ် တော်ကို တည်ဆောက် ခြင်း
ငှါ၊ ငါ့ ခမည်းတော် ဒါဝိဒ် သည် အကြံ ရှိသော
၁၈ အခါ- ထာဝရဘုရားက၊ သင်သည်ငါ့နာမအမှီ
အိမ်တော် တည်ဆောက်ခြင်းငှါ အကြံရှိသော
၁၉ ကြောင့်၊ ကောင်းသောအမှုကိုပြုပြီ။- သို့သော်
လည်း၊ သင်သည် အိမ် တော် ကို မဆောက် ရ။
သင်၏ သားရင်းသည် ငါ့နာမအမှီအိမ်တော်ကို
ဆောက်ရမည်ဟု၊ ငါ့ခမည်းတော်ဒါဝိဒ်အားမိန့်
၂၀ တော်မူ၏။- ထာဝရဘုရားသည် အမိန့်တော်ရှိ
သည်အတိုင်းပြုတော်မူသဖြင့်၊ ငါသည်ခမည်း
တော် ဒါဝိဒ် ၏ အရိုက် အရာ ကို ခံရ၍၊ ထာဝရ
ဘုရား ဂတိတော်ရှိသည် အတိုင်း၊ ဣသရေလ
နိုင်ငံ၏ ရာဇပလ္လင်ပေါ်မှာထိုင်လျက်၊ ဣသရေ
လ အမျိုး၏ ဘုရားသခင် ထာဝရဘုရား၏ နာမ
တော်အမှီ၊ အိမ်တော်ကိုတည်ဆောက်လေပြီ။-
၂၁ ငါတို့ဘိုးဘေးများကိုအဲဂုတ္တုပြည်မှ၊ ထာဝရ
ဘုရားနှုတ်ဆောင်သောအခါ၊ သူတို့နှင့်ဖွဲ့တော်
မူသော ပဋိညာဉ် ကျောက်စာ ပါသော သေတ္တာ
တော်ထားရာအရပ်ကို ထိုအိမ်တော်၌လုပ်လေ
ပြီဟုမြွက်ဆို၏။
၂၂ တဖန်ရှောလမုန်သည်ထာဝရဘုရား၏ယဇ်
ပလ္လင်ရှေ့၊ ဣသရေလအမျိုးပရိသတ်အပေါင်း
တို့ အလယ်မှာ နေ၍၊ လက် ဝါးတို့ကို ကောင်း
၂၃ ကင်သို့ ဖြန့်လျက်- အို ဣသရေလ အမျိုး၏
ဘုရားသခင် ထာဝရဘုရား၊ အထက် ကောင်း
ကင်ဘုံနှင့်အောက်အရပ်မြေကြီးပေါ်မှာကိုယ်
တော် နှင့် တူသော ဘုရား တဆူမျှ မရှိပါ။ ရှေ့
တော်၌ မိတ်နှလုံးအကြွင်းမဲ့ ကျင့်သောကိုယ်
တော်၏ကျွန်တို့အမှီ၊ ပဋိညာဉ်တရားနှင့် ကရု
၂၄ ဏာ တရားကို စောင့် ရှောက် တော်မူပြီ။- အ
ကျွန်ုပ်အဘဒါဝိဒ်၌ထားတော်မူသော ဂတိတော်
ကို မဖျက်၊ မိန့်တော် မူသည် အတိုင်း ယနေ့ပြု
၂၅ တော်မူပြီ။- ထိုဣသရေလအမျိုး၏ဘုရားသခင်
ထာဝရဘုရား၊ ကိုယ်တော်က၊ သင်သည်ငါ့ရှေ့မှာ
ကျင့်သကဲ့သို့ သင်၏သားမြေးတို့သည်ငါ့ရှေ့မှာ
ကျင့်လိုသောငှါ၊ မိမိတို့သွားရာလမ်းကိုသတိ
ပြုလျှင်၊ ငါ့မျက်မှောက်၌ ဣသရေလနိုင်ငံ၏ရာဇ
ပလ္လင်ပေါ်မှာထိုင်ရသော သင်၏ အမျိုးမင်းမျိုး
မပြတ်ရဟု၊ ကိုယ်တော်ကျွန် အကျွန်ုပ်အဘ ဒါ
ဝိဒ်၌ထားတော်မူသောဂတိတော်ကိုယခုစောင့်
၂၆ တော်မူပါ။-ထို ဣသရေလအမျိုး၏ဘုရားသခင်
ထာဝရဘုရား၊ ကိုယ်တော်ကျွန် အကျွန်ုပ်အဘ
ဒါဝိဒ်အားမိန့်တော်မူသောစကားတော်ကိုယခု
၂၇ ပြည့်စုံစေတော်မူပါ။- သို့ရာတွင်၊ ဘုရားသခင်
သည် မြေကြီး ပေါ်မှာ စင်စစ် အမှန် ကျိန်း ဝပ်
တော် မူမည် လော။ ကောင်းကင် နှင့် ကောင်း
ကင်တကာတို့၏အထွဋ်အမြင့်ဆုံးသောကောင်း
ကင်သည် ကိုယ်တော်ကိုမဆံ့ မခံနိုင်သည်ဖြစ်
၍၊ အကျွန်ုပ် တည်ဆောက်သော ဤအိမ်ကို အ
၂၈ ဘယ်ဆို ဖွယ်ရာရှိပါသနည်း။-သို့သော်လည်း၊
အိုအကျွန်ုပ်ဘုရားသခင်ထာဝရဘုရား၊ ကိုယ်
တော် ကျွန်သည် ရှေ့တော်၌ ယနေ့ ကြွေးကြော်
လျက်ပဌနာပြု၍ ဆုတောင်းလျှောက်သောစကား
၂၉ ကို နားခံနားယူ တော်မူပါ။- ဤမည်သော အရပ်
၌ ငါ့နာမ တည်ရမည်ဟု မိန့် တော် မူသည် အ
တိုင်း၊ ဤအရပ်ဌာနနှင့်ဤအိမ်တော်ကိုနေ့ညဉ့်
မပြတ် ကြည့်ရှု၍၊ ကိုယ် တော် ကျွန် သည် ဤ
အရပ် ဌာန၌ ဆုတောင်း သော စကားကို နား
၃၀ ထောင်တော်မူပါ။-ကိုယ်တော်ကျွန်မှစ၍၊ ကိုယ်
တော်၏လူ ဣသရေလအမျိုးသားတို့သည် ဤအ
ရပ်ဌာန၌ ဆုတောင်း ပဌနာ ပြုကြသော အခါ၊
ကျိန်းဝပ် တော် မူရာ ကောင်းကင် ဘုံ၌ နား
ထောင်၍၊ အပြစ်မှလွှတ်တော်မူပါ။
၃၁ လူ သည် မိမိ အိမ် နီး ချင်း ကို ပြစ် မှား သော
ကြောင့်၊ အကျိန် ခံရ မည်ဟု အိမ် နီးချင်း ဆို
လျက်၊ ဤအိမ်တော်၌ကိုယ်တော်၏ယဇ်ပလ္လင်
၃၂ ရှေ့မှာ အကျိန်တိုက်လျှင်-ကောင်းကင်ဘုံ၌နား

ထောင်တော်မူပါ။ မတရားသောသူသည် မိမိ
အပြစ်နှင့်အလျောက် ရှုံးစေခြင်းငှါ၎င်း၊ ဖြောင့်
မတ်သောသူသည် မိမိဖြောင့်မတ်ခြင်းနှင့် အ
လျောက်၊ အကျိုးကိုခံရ၍ အပြစ်မှလွတ်စေခြင်း
ငှါ၎င်း၊ ကိုယ်တော်ကျွန်တို့ကိုတရားစီရင်တော်
မူပါ။
၃၃ ကိုယ်တော်၏ လူဣသရေလ အမျိုးသားတို့
သည် ကိုယ်တော်ကို ပြစ်မှားသော အပြစ်
ကြောင့်၊ ရန်သူရှေ့မှာ ရှုံးရသော အခါ၊ ကိုယ်
တော်ထံသို့ပြန်လာ၍၊နာမတော်ကိုဝန်ခံလျက်၊
ဤအိမ်တော်ကို မျှော်လျက် ဆုတောင်းပဌနာပြု
၃၄ လျှင်– ကောင်းကင်ဘုံ၌ နားထောင်၍၊ ကိုယ်
တော်၏လူဣသရေလအမျိုးသားတို့ကိုအပြစ်မှ
လွှတ်တော်မူပါ။ ဘိုးဘေးတို့အား ပေးသနား
တော်မူသောပြည်သို့ တဖန်ပို့ဆောင်တော်မူပါ။
၃၅ ကိုယ်တော်ကို ပြစ်မှားသော အပြစ်ကြောင့်
မိုဃ်းမရွာ၊မိုဃ်းခေါင်သဖြင့်ကိုယ်တော်သည်
ဆုံးမတော်မူသောအခါ၊ သူတို့သည်ဤအရပ်၌ရှာ
နတော်ကိုမျှော်လျက်ဆုတောင်း၍၊နာမတော်ကို
၃၆ ဝန်ခံလျက်မိမိဒုစရိုက်ကိုစွန့်ပယ်လျှင်-ကောင်း
ကင်ဘုံ၌နားထောင်၍၊ကိုယ်တော်၏ကျွန်၊ကိုယ်
တော်၏ လူဣသရေလ အမျိုးတို့ကို အပြစ်မှ
လွှတ်တော်မူပါ။ သူတို့ လိုက်ရသော လမ်း
ကောင်းကို ပြသွန်၍၊ ကိုယ်တော်၏လူတို့အား
အမွေပေးသော မြေပေါ်မှာ မိုဃ်းရွာစေတော်
မူပါ။
၃၇ ပြည်တော်၌အစာအာဟာရခေါင်းပါးသော်
၎င်း၊ လေထိ၍အပင်သေသော်၎င်း၊ အရည်ယို၍
သေသော်၎င်း၊အရာတကျိုင်း၊ခါသိလကျိုင်းကိုက်
စားသော်၎င်း၊ရန်သူတိုက်လာ၍မြို့ကိုဝိုင်းထား
သော်၎င်း၊ ဘေးဥပါဒ်၊ အနာရောဂါ တစုံတခု
၃၈ ရောက်သောအခါ– ကိုယ်တော်၏လူဣသရေ
လအမျိုးသားအချို့တို့သည် အသီးအသီး ခံရ
သော ဘေးဒါဏ်ကိုသိလျက်၊ ဤအိမ်တော်သို့
မိမိတို့လက်ဝါးကိုဖြန့်၍၊တစုံတခုသောပဌနာ
၃၉ စကားအားဖြင့်ဆုတောင်းလျှင်-ကျိန်းဝပ်တော်
၄၀ မူရာကောင်းကင်ဘုံ၌နားထောင်တော်မူပါ။ဘိုး
ဘေးတို့အားပေးသနားတော်မူသောပြည်၌၊ သူ
တို့သည်အသက်ရှင်သော ကာလပတ်လုံးကိုယ်
တော်ကို ကြောက်ရွံ့ပါမည်အကြောင်း၊ ကိုယ်
တော်သာလျှင် လူသတ္တဝါ အပေါင်းတို့၏စိတ်
နှလုံးသဘောကို သိတော်မူသည်ဖြစ်၍၊ ဆု

တောင်းသောသူတို့၏စိတ်နှလုံးသဘောကိုသိ
လျက်၊ သူတို့အပြစ်ကိုလွှတ်တော်မူပါ။ အသီး
အသီးပြုကြသည်အတိုင်းစီရင်တော်မူပါ။
၄၁ ကိုယ်တော်၏ လူဣသရေလ အမျိုး မဟုတ်၊
၄၂ တပါးအမျိုးသား တို့သည် ကြီးမြတ်သောနာမ
တော်၏ သိတင်းနှင့်တန်ခိုးကြီး၍၊ ဆန့်တော်မူ
သော လက်ရုံးတော်၏ သိတင်းကို ကြားသော
ကြောင့်၊နာမတော်ကိုထောက်သဖြင့်၊ဝေးသော
ပြည်မှရောက်လာ၍၊ ဤအိမ်တော်ကိုမျှော်လျက်
၄၃ ဆုတောင်းလျှင်– ကျိန်းဝပ်တော်မူရာ ကောင်း
ကင်ဘုံ၌နားထောင်တော်မူပါ။ကိုယ်တော်၏လူ
ဣသရေလ အမျိုးသားတို့သည် ကိုယ်တော်ကို
ကြောက်ရွံ့သကဲ့သို့၊ မြေကြီးသားအပေါင်းတို့
သည်ကြောက်ရွံ့လျက်၊နာမတော်ကိုသိစေခြင်း
ငှါ၎င်း၊ အကျွန်ုပ် တည် ဆောက်သော ဤအိမ်
တော်ကို နာမတော်ဖြင့် သမုတ်ကြောင်းကို သိ
စေခြင်းငှါ၎င်း၊ ထိုတပါးအမျိုးသားတို့သည်ဆု
တောင်းသမျှအတိုင်းကျေးဇူးပြုတော်မူပါ။
၄၄ ကိုယ်တော် စေခိုင်းတော်မူသည် အတိုင်း၊
ကိုယ်တော်၏လူတို့သည် ရန်သူတို့ရှိရာသို့စစ်ချီ
သောအခါ၊ ရွေးတော်မူသောမြို့၊ နာမတော်အ
ဖို့ အကျွန်ုပ် တည်ဆောက်သော အိမ်တော်ကို
မျှော်လျက်၊ ထာဝရဘုရားအား ဆုတောင်းကြ
၄၅ လျှင်-သူတို့ဆုတောင်းပဌနာပြုသော စကားကို
ကောင်းကင်ဘုံ၌ နားထောင်၍၊ သူတို့ အမှုကို
၄၆ စောင့်တော်မူပါ။– မပြစ်မှားတတ်သော လူတ
လောက်မျှမရှိသည်ဖြစ်၍၊ ကိုယ်တော်၏လူတို့
သည် ကိုယ်တော်ကို ပြစ်မှားသောကြောင့်၊ အမျက်
တော်ထွက်၍၊ ရန်သူလက်သို့အပ်တော်မူ
သဖြင့်၊ရန်သူတို့သည်ဝေးသောပြည်၊ နီးသော
ပြည်၊ အခြားတပါးသော ပြည်သို့ သိမ်းသွား
၄၇ လျှင်၎င်း– ထိုပြည်၌ အချုပ်ခံစဉ်၊ သူတို့သည်
သတိရ၍၊ အကျွန်ုပ်တို့သည် ပြစ်မှားပါပြီ။ မ
ဖြောင့်သောအမှု၊ဆိုးညစ်သောအမှုကိုပြုမိပါ
၄၈ ပြီဟုစိတ်ပြောင်းလဲ၍တောင်းပန်သဖြင့်–သိမ်း
သွားသော ရန်သူတို့၏ပြည်၌ နေစဉ်၊စိတ်နှလုံး
လုံးအကြွင်းမဲ့ အထံတော်သို့ ပြန်လာ၍၊ ဘိုး
ဘေးတို့အားပေးတော်မူသောပြည်၌၊ ရွေးတော်မူ
သောမြို့၊နာမတော်အဖို့အကျွန်ုပ်တည်ဆောက်
သော အိမ်တော်ကို မျှော်လျက် ဆုတောင်း လျှင်
၄၉ ၎င်း– သူတို့ ဆုတောင်း ပဌနာပြုသော စကားကို
ကျိန်းဝပ်တော်မူရာကောင်းကင်ဘုံ၌နားထောင်

၅၀ ၍၊သူတို့အမှုကိုစောင့်တော်မူပါ။- ကိုယ်တော်
၏လူတို့သည်ကိုယ်တော်ကိုပြစ်မှားသော်လည်း၊
ကိုယ်တော်ကိုပြစ်မှား လွန်ကျူးခြင်းအပြစ်အ
လုံးစုံတို့ကိုဖြေရှင်းတော်မူပါ။ သိမ်းသွားသော
သူတို့သည်ကိုယ်တော်၏လူတို့ကိုသနားစေခြင်း
၅၁ ငှါ၊ကရုဏာစိတ်သဘောကိုပေးတော်မူပါ။-အ
ကြောင်းမူကား၊ သူတို့သည် အဲဂုတ္တုပြည်၏သံ
မီးဖိုထဲက နှုတ်ယူ တော် မူသော ကိုယ် တော်၏
လူ၊ အမွေ ခံရတော် မူသော အမျိုး ဖြစ်ပါ၏။-
၅၂ ကိုယ်တော်၏ ကျွန်မှစ၍၊ကိုယ်တော်၏လူဣသ
ရေလ အမျိုး သား ဆုတောင်း ပဌနာ ပြုသော
စကား အလုံးစုံတို့ကိုနားထောင်ခြင်းငှါ၊ ကြည့်
၅၃ ရှုမှတ်ယူ တော် မူပါ။- အကြောင်း မူကား၊ အ
ကျွန်ုပ်တို့ ဘိုးဘေးများကိုအဲဂုတ္တု ပြည်မှ နှုတ်
ဆောင်တော် မူသောအခါ၊ ကိုယ်တော်၏ ကျွန်
မောရှေအားဖြင့် မိန့်တော်မူသည်အတိုင်း၊ ဣ
သရေလအမျိုးကို ကိုယ်တော်အမွေခံရာဖြစ်စေ
ခြင်းငှါ၊ မြေကြီးသားအမျိုးမျိုးထဲက ရွေးနှုတ်
ခွဲထားတော်မပြီ အရှင်ထာဝရဘုရားဟု ပဌနာ
ပြုလေ၏။
၅၄ ထိုသို့ရှောလမုန်သည်ထာဝရဘုရားရှေ့တော်
၌ဆုတောင်း ပဌနာပြု၍ပြီးသောအခါ၊ ထာဝရ
ဘုရား၏ ယဇ်ပလ္လင် ရှေ့မှာ ဒူးထောက် လျက်၊
လက်ဝါးတို့ကို ကောင်းကင်သို့ ဖြန့်လျက်နေရာ
၅၅ မှထ၍-မတ်တတ်နေပြီးလျှင်၊ ဣသရေလအမျိုး
ပရိသတ်အပေါင်းတို့ကို ကျယ်သောအသံနှင့်
၅၆ ကောင်းကြီး ပေးသောစကားဟူမူကား၊- ဂတိ
တော်ရှိသမျှအတိုင်းမိမိလူဣသရေလအမျိုးကို
ငြိမ်ဝပ်စေ ခြင်းငှါ၊ စီရင်တော် မူသော ထာဝရ
ဘုရားသည် မင်္ဂလာရှိတော် မူစေသတည်း။ မိမိ
ကျွန် မောရှေ အားဖြင့် ထားတော် မူသောဂတိ
၅၇ တော်ကောင်းတခွန်းမျှမပျက်၊-ငါတို့ဘုရားသ
ခင်ထာဝရဘုရားသည်ငါတို့ဘိုးဘေးများနှင့်အ
တူရှိတော်မူသည်နည်းတူ၊ငါတို့နှင့်အတူရှိတော်
မူပါစေသော။ ငါတို့ကို အလျှင်း စွန့်ပစ်တော်
၅၈ မမူပါစေနှင့်။- လမ်းတော်တို့သို့ လိုက်စေခြင်း
ငှါလည်း၊ဘိုးဘေးတို့အား မှာထားတော်မူသောစီ
ရင်ထုံးဖွဲ့ချက်ပညတ်တရားတို့ကိုစောင့်ရှောက်
စေခြင်းငှါလည်း၊ ငါတို့ စိတ်နှလုံးကို အထံတော်
၅၉ သို့ သွေး ဆောင် တော် မူပါ စေ သော။- ထာဝရ
၆၀ ဘုရားသည်ဘုရားသခင်ဖြစ်တော်မူကြောင်းကို
၎င်း၊အခြားတပါးသောဘုရားသခင်မရှိကြောင်း
ကို၎င်း၊ မြေကြီးသား အပေါင်း တို့သည် သိကြ
မည် အကြောင်း၊ ငါတို့ ဘုရား သခင် ထာဝရ
ဘုရားသည်မိမိကျွန်နှင့်မိမိလူဣသရေလအမျိုး
သားတို့၏အမှုကိုစောင့်စရာ အကြောင်းရှိသည်
အတိုင်း၊အစဉ်စောင့်တော်မူစေခြင်းငှါ၊ထာဝ
ရဘုရား ရှေ့တော်၌၊ ငါဆုတောင်းသော ဤပဌ
နာစကားသည် နေ့ညဉ့်မပြတ် အနီးတော်၌ရှိ
၆၁ ပါစေသော။- သင်တို့သည်ယနေ့ကျင့်သကဲ့သို့၊
ငါတို့ဘုရားသခင် ထာဝရဘုရား စီရင်တော်မူ
သော ထုံးသို့လိုက်၍၊ ပညတ်တရား တော်ကို
စောင့်ရှောက်ခြင်းငှါ၊ အထံတော်၌စိတ်နှလုံး
စုံလင်ပါစေသောဟု မြွက်ဆိုလေ၏။
၆၂ ထိုအခါရှောလမုန်မင်းကြီးနှင့်တကွဣသရေ
လအမျိုးသားအပေါင်းတို့သည်ထာဝရဘုရား
၆၃ ရှေ့တော်၌ယဇ်ပူဇော်ကြ၏။- နွားနှစ်သောင်း
နှစ်ထောင်၊သိုးတသိန်းနှစ်သောင်းတို့ကိုထာဝ
ရဘုရားအားမိဿဟာယ ယဇ်ပူဇော် သဖြင့်၊
ထာဝရဘုရား၏ အိမ်တော်ကို အနုမောဒနာပြု
၆၄ ကြ၏။- ထိုနေ့၌လည်း၊ရှင်ဘုရင်သည်ထာဝရ
ဘုရား၏ အိမ်တော်ရှေ့မှာ ရှိသောတန်တိုင်းအ
တွင်းအရပ်ကို သန့်ရှင်းစေ၍၊ ထိုအရပ်၌ မီးရှို့
ရာယဇ်၊ဘောဇဉ်ပူဇော်သကာ၊မိဿဟာယ
ယဇ် ကောင် ဆီဥကို ပူဇော်၏။ အကြောင်းမူ
ကား၊ထာဝရဘုရားရှေ့တော်၌ရှိသောကြေးဝါ
ယဇ် ပလ္လင်သည် မီး ရှို့ရာ ယဇ်၊ ဘောဇဉ်ပူ
ဇော်သကာ၊မိဿဟာယယဇ်ကောင်ဆီဥကိုမ
၆၅ ခံထောက်။- ထိုအခါ ရှောလမုန်သည် အဝင်
များ စွာသော ပရိသတ် တည်း ဟူသော၊ ဟာ
မတ်မြို့ဝင်ဝမှစ၍အဲဂုတ္တုမြစ်တိုင်အောင်၊အနှံ့
အပြားအရပ်ရပ်ကလာကြသောဣသရေလအ
မျိုးသား အပေါင်း တို့နှင့် တကွ၊ ငါတို့ ဘုရား
သခင်ထာဝရဘုရား ရှေ့တော်၌ခုနှစ်ရက် နှစ်ထပ်
၆၆ တဆယ်လေးရက်ပတ်လုံး ပွဲခံတော်မူ၏။- ရှစ်
ရက်မြောက်သောနေ့၌ လူများတို့ကိုလွှတ်လိုက်
တော်မူ၏။သူတို့သည်ရှင်ဘုရင်ကိုကောင်းကြီး
ပေးလျက်၊ ထာဝရဘုရားသည် မိမိကျွန် ဒါဝိဒ်
နှင့်မိမိလူဣသရေလအမျိုးသားတို့၌ ပြုတော်မူ
သမျှသောကျေးဇူးတော်ကြောင့်၊ ဝမ်းမြောက်
ရွှင်လန်းလျက်မိမိတို့နေရာသို့ပြန်သွားကြ၏။

၉

၁ ရှောလမုန်သည် ဗိတ်မှန်တော်နှင့် နန်းတော်
ကိုထက်စသတ်၍၊ မိမိအလို ဆန္ဒရှိသမျှပြည့်စုံ

၂ ထောအခါ– ထာဝရဘုရားသည် ဂိဗောင်မြို့၌
ထင်ရှားတော်မူသကဲ့သို့၊ ဒုတိယအကြိမ်၌ထင်
၃ ရှားတော်မူလျက်-သင်သည်ငါ့ရှေ့မှာဆုတောင်း
ပဌနာပြုသောစကားကို ငါကြားပြီ။ သင်တည်
ဆောက်သော ဤအိမ်ကို ငါသန့်ရှင်းစေ၍၊ ငါ
နာမကို အစဉ် တည်စေမည်။ အစဉ်ငါကြည့်
၄ ရှုလျက် နှစ်သုံး ခွဲထစ်၊ လျှက် နေမည်။– သင်
သည် ငါ မှာထားသမျှကို ပြု၍၊ ငါ့စီရင် ထုံးဖွဲ့
ချက်တို့ကိုစောင့်ရှောက်ခြင်းငှါ၊ သင့်အဘဒါဝိဒ်
ကဲ့သို့ ဖြောင့်မတ်နှံ့ထင်သော စိတ် သဘောနှင့်
၅ ငါ့ရှေ့မှာ ကျင့်နေလျှင်– ဣသရေလနိုင်ငံ၏ ရာဇ
ပလ္လင်ပေါ်မှာထိုင်ရသောသင်၏အမျိုးမင်းမျိုးမ
ပြတ်ရဟု၊ သင့်အဘဒါဝိဒ်အား ငါဂတိရှိသည်
အတိုင်း၊ သင်ထိုင်ရသော ဣသရေလ နိုင်ငံ၏ရာ
၆ ဇပလ္လင်ကိုအစဉ် ငါတည်စေမည်။–သို့မဟုတ်၊
သင်နှင့်သင်၏ သားမြေးတို့သည် နောက်သို့မ
လိုက်၊ ထမ်းဖွဲ့လျှက် ငါမှာထားသောစီရင်ထုံး
ဖွဲ့ချက်တို့ကိုမစောင့်၊အခြားတပါးသောဘုရား
၇ ထံသို့သွား၍ဝတ်ပြုကိုးကွယ်လျှင်– ဣသရေလ
အမျိုးကိုငါပေးသောပြည်မှငါပယ်ဖြတ်မည်။ငါ
နာမထားမည်ငါသန့်ရှင်းစေသော ဤအိမ်တော်ကိုငါ
ရှုကွယ်မှာတ်မှ ပယ်ရှားမည်။ ဣသရေလ အမျိုး
သည်လည်း၊ တပါးအမျိုးသားတို့တွင် ပုံခိုင်း
၈ ရာ၊ကဲ့ရဲ့ရာဖြစ်ရလိမ့်မည်။– အရပ်မြင့်သောဤ
အိမ်တော်ကိုလည်းထမ်း၍ ရှောက်သွားသော
သူအပေါင်းတို့သည်အံ့ဩ၍၊ထာဝရဘုရား
သည် ဤပြည်နှင့် ဤအိမ်ကို အဘယ်ကြောင့်ဤ
သို့ပြုတော်မူသနည်းဟု၊ ကဲ့ရဲ့သံကိုပြုလျက်တ
၉ ယောတ်မေးမြန်းသော်-တယောက်က၊သူတို့၏
ဘိုးဘေးများကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်
သောသူတို့၏ ဘုရားသခင်ထာဝရဘုရားကို သူ
တို့သည်စွန့်၍၊အခြားတပါးသောဘုရားကိုမှီဝဲ
လျှက်ဝတ်ပြုကိုးကွယ်ကြသောကြောင့်၊ထာဝရ
ဘုရားသည် ဤအမှုအထုံးနှံ့ကို ရောက်စေတော်
မူကြောင်းကို ပြန် ပြော လိမ့်မည်ဟု မိန့်တော်
မူ၏။

၁၀ ရှောလမုန်သည် မိတ်မှန်တော်နှင့် နန်းတော်
တည်းဟူသော အိမ်တော် နှစ်ဆောင်ကို တည်
၁၁ ဆောက်၍ အနှစ်နှစ်ဆယ်စေသောအခါ– တုရု
မင်းကြီး ဟိရံသည် ရှောလမုန်ကို ချင်သမျှ အ
လိုဝံအားရစ်ထစ်ကား၊ ထင်းရှူး ထစ်သားနှင့်
ထူးမခွယ် ထရာနှစ်ဆယ်ကို သယ်နှင့်သည် ဖြစ်
၍၊ ရှောလမုန် မင်းကြီးသည် ဂါလိလဲ ပြည်၌
၁၂ မြို့နှစ်ဆယ်ကိုဟိရံ မင်းကြီးအားပေး၏။– ရှော
လမုန်ပေးသောမြို့တို့ကိုဟိရံသည်တုရုမြို့မှထွ
၁၃ ၍ကြည့်ရှုသော အခါ အားမရ။– ငြီ၊ ငါ့အား
ပေးသောမြို့တို့သည် အဘယ်သို့သော မြို့နည်း
၁၄ ဟုဆိုလျက်- ထိုအရပ်ကို ကာဗုလဟူ၍ ထနေ့
တိုင်အောင်သမုတ်သတည်း။
၁၅ ရှောလမုန် မင်းကြီး သည် ငွေခွဲရ သော အ
ကြောင်းဟူမူကား၊ မိတ်မှန်တော်၊ နန်းတော်၊
မိလ္လောမြို့၊ ယေရုရှလင်မြို့ရိုး၊ ဟာဇော်မြို့၊ မေ
ဂိဒ္ဒေါမြို့၊ ဂေဇာမြို့တို့ကို တည်ဆောက် ခြင်းငှါ
၁၆ ငွေခွဲရသတည်း။– ဂေဇာမြို့ကိုကား၊ အဲဂုတ္တု
ဖာရောဘုရင်သည်စစ်ချီ၍ထိုက်ယူမီးရှို့ထမြင့်၊
မြို့သား ခါနာနိ လူတို့ကို လုပ် ကြံ ပြီးမှ၊ မိမိသမီး
ရှောလမုန်၏ ခင်ပွန်းအား လက်ဆောင် ပေးနှင့်
၁၇ ထေပြီ။–သို့ဖြစ်၍၊ဂေဇာမြို့ကိုရှောလမုန်တည်
၁၈ ထေ၏။ထိုမှတပါး၊အောက်ဗေသောရုန်မြို့၊–ဗာ
လက်မြို့၊ တောအရပ်၊ ပြည်ထဲမှာ တာဒမော် မြို့
၁၉ ထိုကိုလည်းတည်ထေ၏။– တဏှာတော်သိုထား
သောမြို့များ၊ ရထားတော် ထိန်းသော မြို့များ၊
မြင်းတော် ကျွေးသော မြို့များ၊ ယေရုရှလင် မြို့
• ပတ်လည်၊ထေဗနုန်တောင်ပေါ်၊နိုင်ငံတော်အ
ရပ်ရပ်၌ တည် ချင် သော မြို့များ ထိုကို ထည်း
တည်ထေ၏။
၂၀ ဣသရေလ အမျိုးသား အကုန် အစဉ် မဖွတ်
၂၀ ဆိ၊ နိုင်သော ကြောင့်၊ ပြည်တော်၌ ကျန် ကြွင်း
သောတပါးအမျိုးသား၊အာမောရိ၊ ဟိတ္တိ၊ ဖေရ
ဇိ၊ ဟိဝိ၊ ယေဗုသိအမျိုးအနွယ် ထားမည့်မြေး
ဆက် အပေါင်း တို့ကို ရှောလမုန် သည် ထနေ့
၂၂ တိုင်အောင်လုပ်ခွဲ၍ ကျွန်ခံစေ၏။– ဣသရေလအ
မျိုးသားတို့ကိုကား၊ရှောလမုန်သည်ကျွန်မခံစေ
စ်သူရဲ၊အမှုတော်စောင့် မှူးမတ်၊စစ်ကဲ၊ရထား
တော်အုပ်၊မြင်းတော်အုပ်အရာ၌ခန့်ထားတော်
၂၃ မူ၏။– တည် ဆောက် ခြင်း အမှု တော် ကို စီရင်
သောသူ အမှုတော်အုပ် ငါးရာငါးဆယ် ရှိ၏–
၂၄ ဖာရော ရှင်ဘုရင် ၏ သမီး တော် သည် ဒါဝိဒ် မြို့မှ
ထွက်၍၊သူအဖို့ရှောလမုန်တည်ဆောက်သော
နန်း တော် သို့ ပြောင်း ပြီး မှ၊ ရှောလမုန် သည်
၂၅ မိလ္လောမြို့ကိုပြုပြင်ထေ၏။– ထာဝရဘုရားအဖို့
တည်သောယဇ်ပလ္လင်ပေါ်မှာ မီးရှို့ရာ ယဇ်တို့
ကိုတနှစ်တနှစ်လျှင်သုံးကြိမ်ပူဇော်၍၊ထာဝရ
ဘုရား၊ ရှေ့တော်၌ ရှိသော ယဇ်ပလ္လင် ပေါ်မှာနံ့

ထားပေါင်းကိုမီးရှို့သဖြင့်၊ ဖါရောဘုရားကိုပင်လျှင် တည်စေ
ထတ်ထေ၏။
၂၆ ထစန်ရှောလမုန်မင်းကြီးသည်ဧဒုံပြည်တွင်၊
ဧရုံပင်လယ်ကမ်း နား၌၊ ဧလုတ်မြို့နှင့် နီးစပ်
သောဧဇယုန်ဂါဗာမြို့မှာ သင်္ဘောတို့ကို တည်
၂၇ ထုပ်၏။- ပင်လယ် ကူးသော အမှုကို နားလည်
သော မိမိ ကျွန်၊ သင်္ဘော သား တို့ကို ဟိရံ မင်း
သည် ထိုသင်္ဘောပေါ်မှာ ရှောလမုန်၏ လူတို့နှင့်
၂၈ အတူ မိစေ၏။-သူတို့သည်ဩဖိရမြို့သို့သွား၍၊
ရွှေအခွက်လေးရာ နှစ်ဆယ်ကို ရှောလမုန် မင်း
ကြီးထံသို့ဆောင်ခဲ့ကြ၏။

၁၀

၁ ရှေဘပြည်ကိုအစိုးရသောမိဖုရားသည်ရှော
လမုန်၏ဂုဏ်အသရေနှင့်ထာဝရဘုရား၏နာမ
တော်သိတင်းကို ကြားလျှင်၊ နက်နဲခက်ခဲသော
ပြဿနာ အားဖြင့် သူကို စုံစမ်းခြင်းငှါ လာ၏။-
နံ့သာမျိုးနှင့်ရွှေများစွာသော ရွှေ၊ အဘိုး ထိုက်သော
ကျောက်တို့ကို ဆောင်သော ကုလားအုတ်များ၊
ထိုက်သော သူများနှင့်တကွ ယေရုရှလင် မြို့သို့
ရောက်၍၊ ရှောလမုန် မင်းကြီး ထံတော်သို့ ဝင်
သောအခါ၊ မိမိအလို ဆန္ဒ ရှိသမျှကို ဆွေးနွေး
၃ မေးမြန်းလေ၏။-သူမေးမြန်းသောပြဿနာရှိ သ
မျှတို့ကိုရှောလမုန်မင်းကြီးသည်ဖြေလေ၏။နား
မလည်၍ မဖြေနိုင်သော အရာတစုံတခုမျှမရှိ။-
၄ ရှေဘမိဖုရားသည် ရှောလမုန်၏ ပညာ အလုံးစုံ
ကိုင်၎င်း၊ တည်ဆောက်သော အိမ် တော်ကို၎င်း-
၅ စားပွဲတော် တန်ဆာကို၎င်း၊ အမှုတော်စောင့်တို့
နေရာ ထိုင်ရာ ကို၎င်း၊ လုထင် တို့ ခစား သည် အ
ခြင်းအရာကို၎င်း၊ သူတို့ဝတ်သော အဝတ် တန်
ဆာကို၎င်း၊ဝန်စာရေးများကို၎င်း၊ထာဝရဘုရား
၏အိမ်တော်၌ မီးရှို့ရာ ယဇ်ပူဇော် ခြင်းကို၎င်း
၆ မြင်သောအခါမိန်းမောတွေဝေလျက်ရှိ၍-ကိုယ်
တော်၏အခြင်းအရာနှင့် ကိုယ်တော်၏ပညာကို
အကျွန်ုပ်သည်ကိုယ်ပြည်၌ကြားရသောသိတင်း
၇ စကား မှန်ပါ၏။- သို့သော်လည်း၊ ကိုယ် တိုင်
ရောက်၍မမြင်မှီထိုစကားကိုမယုံ၊ယခုမူကား၊
အရင် ကြားသော စကားသည် တဝက်ကိုမျှ မ
မှီ၊ ကိုယ်တော်၏ပညာ နှင့် ကိုယ် တော်၏စည်း
စိမ်သည်အကျွန်ုပ်ကြားရသောသိတင်းကိုလွန်
၈ ထဲပါ၏။- ရှေ့တော်၌ အစဉ်နေ၍ ပညာတော်
ကိုကြားရသော ကိုယ်တော်၏လူ၊ ကိုယ်တော်
၉ ၏ကျွန်တို့သည်မင်္ဂလာရှိကြပါ၏။- ကိုယ်တော်

ကိုနှစ်သက်၍၊ ဣသရေလနိုင်ငံ၏ ရာဇပလ္လင်
ပေါ်မှာ တင်တော်မူသောကိုယ်တော်၏ ဘုရား
သခင်ထာဝရဘုရားသည် မင်္ဂလာ ရှိတော်မူစေ
သတည်း။ထာဝရဘုရားသည်ဣသရေလအမျိုး
ကိုအစဉ် ချစ်သောကြောင့်၊ ဖြောင့်မတ်စွာ တ
ရားစီရင်စေခြင်းငှါ၊ ကိုယ်တော်ကိုရှင်ဘုရင်အ
ရာ၌ခန့်ထားတော်မူပြီဟု၊ ရှင်ဘုရင်အားပြော
၁၀ ဆို၍- ရွှေ အခွက်တရာနှစ်ဆယ်၊ နံ့သာမျိုးအ
များ၊ ကျောက်မြတ် တို့ကို ဆက် လေ၏။ ရှေဘ
မိဖုရားသည်ရှောလမုန်မင်းကြီးအား ဆက်သော
နံ့သာမျိုးနှင့်အမျှများပြားသောနံ့သာမျိုးသည်
၁၃ နောက် တဖန် မရောက်။- ရှောလမုန် မင်းကြီး
သည်အလိုလို ပေးသော လက်ဆောင်မှ တပါး၊
ရှေဘမိဖုရား၏ အလိုဆန္ဒ ပြည့်စုံစေခြင်းငှါ၊ သူ
တောင်းသမျှကိုလည်းပေးတော်မူ၏။ ထိုနောက်
မှ၊ မိဖုရားသည်မိမိကျွန်တို့နှင့်တကွမိမိပြည်သို့
ပြန်သွားလေ၏။
၁၁ ဩဖိရမြို့မှရွှေကိုဆောင်ခဲ့သော ဟိရံသဘော
တို့သည်အာလဂုံသစ်သားများ၊ ကျောက်မြတ်
များကိုလည်းဆောင်ခဲ့ကြ၏။- ထိုအာလဂုံသစ်
သား ဖြင့်ရှင်ဘုရင်သည် မိတ်မှန်တော် ပွတ်လုံး
တန်းနှင့်နန်းတော် ပွတ်လုံးတန်းကို၎င်း၊ သီခြင်း
ဆိုသောသူတို့စောင်းနှင့်တယောတို့ကို၎င်းလုပ်
လေ၏။ ထိုသို့ သော အာလဂုံ သစ် သား သည်
နောက်တဖန်မရောက်၊ ယနေ့တိုင်အောင် မပေါ်
၁၄ လာ။ ရှောလမုန်ထံသို့တနှစ်တနှစ်လျှင်၊ရောက်
သောရွှေအမှိန်ကား၊အခွက်ခြောက်ရာခြောက်
၁၅ ဆယ်ခြောက်ပိဿာဖြစ်သတည်း။- ထိုမှတပါး၊
ကုန်သည်များ၊ လှည်းသမားများ၊ အာရပ်မင်း
ကြီးရှိသမျှ၊ မြို့ဝန်များဆက်သောရွှေရှိသေး၏။-
၁၆ ရှောလမုန် မင်းကြီး သည် ရွှေ ခြောက်ပိဿာစီ
၁၇ ဖြင့်ဒိုင်းကြီး နှစ်ရာ၊ သုံး ပိဿာ စီဖြင့် ဒိုင်းငယ်
သုံးရာတို့ကိုထုလုပ်၍၊လေဗနုန်တောသစ်သား
နှင့်ဘည်ဆောက်သောနန်းတော်၌ ထားတော်မူ
၁၈ ၏။-ရှင်ဘုရင်သည်လည်း၊ဆင်စွယ်ရာဇပလ္လင်
၁၉ ကြီးကို လုပ်၍၊ ရွှေစင်နှင့် စွမ်းခံ လေ၏။- ရာဇ
ပလ္လင် တော် သည် လှေကား ခြောက် ထစ် ရှိ၏။
နောက်ဖေးဝိုင်း၏။ ထိုင်ရာ တဖက် တချက်၌ ဒြ
ရာထက်ရုံးတန်းနှင့်ပြည့်စုံ၍၊ လက်ရုံးတန်းအ
၂၀ နားမှာ ခြင်္သေ့နှစ်ကောင်ရပ်နေ၏။- လှေကား
ခြောက်ထစ်အပေါ်တွင်၊တဖက်တချက်၌လည်း
ခြင်္သေ့တဆယ်နှစ်ကောင်ရပ်နေ၏။ထိုသို့သော

ရာဇ ပလ္လင်ထည် အတယ် တိုင်း နိုင်ငံ၌မျှ မရှိ။-
၂၀ ရှောလမုန် မင်းကြီး သောက်သော ဖလားတော်
ရှိသမျှနှင့်၊ လေဗနုန်နန်းတော်၌သုံးသောဖလား
တော် ရှိသမျှတို့ သည် ရွှေဖလား မထုတ်၊ ရွှေစ
ထားထက်သက်ဖြစ်၏။ ရှောလမုန်လက်ထက်၌
၂၁ ငွေကိုအလျှင်းပမာဏမပြုတတ်ကြ။-ရှင်ဘုရင်
ထည်တာရှုသင်္ဘောကို ဟိရံမင်းသင်္ဘောနှင့်အ
တူစေလွှတ်သဖြင့်၊ သုံးနှစ်တခါ တာရှုသင်္ဘော
သည်ပြန်လာ၍ ရွှေ၊ ငွေ၊ ဆင်စွယ်၊ မျောက်များ၊
ဒေါင်းများကိုဆောင်ခဲ့တတ်၏။
၂၃ ထိုသို့ရှောလမုန်သည်မြေကြီးပေါ်မှာရှိသမျှ
သောရှင်ဘုရင်တို့ထက်ပညာနှင့်စည်းစိမ်အား
၂၄ ဖြင့် လွန်ကဲ၏။- ရှောလမုန်၏ နှစ် လုံး၌ ဘုရား
သခင်သွင်းပေး တော်မူသော ပညာကို မြေကြီး
သားအပေါင်းတို့သည်ကြားရအံ့သောငှါ၊ မျက်
၂၅ နှာတော်ကို ဖူးလာကြ၏။- လာသောသူ အသီး
အသီး တို့သည် ရွှေဖလား၊ ငွေဖလား၊ အဝတ်
တန်ဆာ၊ စစ်တိုက်ထက်နက်၊ နံ့သာမျိုး၊ မြင်း၊
၂၆ လားတို့ကို နှစ်တိုင်းအခွန် ဆက်ရကြ၏။- ရှော
လမုန် သည်လည်း၊ ရထားများ၊ မြင်းစီး သူရဲ
များကိုစည်းဝေး၍၊ ရထား တထောင်နှင့် လေး
ရာ၊ မြင်းစီး သူရဲ ထသောင်း နှစ် ထောင် ရှိ၏။
ရထားထိန်း မြို့တို့၌ ၎င်း၊ ယေရုရှလင် မြို့ အထံ
၂၇ တော်၌၎င်းထား၏။-ရှင်ဘုရင်သည်ယေရုရှလင်
မြို့၌ ငွေကို ကျောက်ခဲကဲ့သို့၎င်း၊ အာရဇ် ပင်တို့
ကိုလွင်ပြင်၌ ပေါက်သော သဖန်းပင်ကဲ့သို့ ၎င်း
၂၈ များ ပြားစေ၏။- ရှောလမုန်ထံသို့ မြင်းများကို
အဲဂုတ္တုပြည်၊ ကောမြို့မှဆောင်ခဲ့ရ၏။ ရှင်ဘုရင်
၏ကုန်သည်တို့သည်အထိုးပေးလျှက်ကောမြို့၌
၂၉ ခံယူရကြ၏။- အဲဂုတ္တုပြည်မှရထားတစီးကိုငွေ
ခြောက် ပိဿာနှင့်၎င်း၊ မြင်းတစီးကို တပိဿာ
ငါးဆယ်နှင့်၎င်း ရောင်းမြဲရှိ၏။ ထိုသို့ဟိတ္တိမင်း
ကြီးနှင့်ရှုရိမင်းကြီး အပေါင်းတို့သည်အဲဂုတ္တု
ရထားနှင့်မြင်းတို့ကိုရတတ်ကြ၏။

၁၁

၁ ရှောလမုန်မင်းကြီးသည်ဖာရောဘုရင်၏သမီး
မှတပါး၊ ဣသရေလ အမျိုးသား မထုတ်သော
မောအာအမျိုး၊ အမ္မုန်အမျိုး၊ ဧဒုံအမျိုး၊ ဇိဒုန်အ
မျိုး၊ ဟိတ္တိအမျိုးသားမိန်းမများတို့ကိုချစ်တတ်
၂ ၏။-ထာဝရဘုရားက၊ သင်တို့သည်တပါးအမျိုး
သားတို့နှင့်စုံဖက်ခြင်းကိုမပြုရ။ အကြောင်းမူကား
သူတို့သည် မိမိတို့ဘုရားများနောက်သို့ သင်တို့

၏စိတ်နှလုံးကိုလွှဲစေကြလိမ့်မည်ဟု၊ ဣသရေ
လအမျိုးသားတို့အား မိန့်တော်မူသော်လည်း၊
ရှောလမုန်သည်တပါးအမျိုးသားမိန်းမတို့ကိုတပ်
၃ မက်သောစိတ်ရှိ၏။- မင်းသမီးဖြစ်သော ခင်ပွန်း
ခုနှစ်ရာ၊ မောင်းမမိဿံ သုံးရာရှိ၍၊ သူတို့သည်
၄ စိတ် နှလုံး တော်ကို လွှဲစေကြ၏။- ရှောလမုန်
သည်အသက် ကြီးသောအခါ၊ မိန်းမများတို့သည်
စိတ်နှလုံး တော်ကို အခြားတပါးသော ဘုရား
နောက်သို့လွှဲစေသဖြင့်၊ စိတ်နှလုံးတော်သည်
ခမည်းတော်ဒါဝိဒ်၏စိတ်နှလုံးကဲ့သို့မိမိဘုရား
သခင်ထာဝရဘုရား၌ တော်၌ စုံလင်ခြင်းမရှိ။-
၅ ဇိဒုန် နတ်သမီး အာရှတရက်၊ ရွံရှာဖွယ် သော
၆ အမ္မုန်ဘုရားမိလကုံနောက်သို့လိုက်၍-ခမည်း
တော် ဒါဝိဒ် ကဲ့ သို့ ထာဝရ ဘုရား ၌ လုံးလုံး မ
၇ ဆည်းကပ်၊ ရှေ့တော်၌ဒုစရိုက်ကိုပြုလေ၏။-ထို
အခါ ရှောလမုန်သည် ရွံရှာ ဖွယ်သော မောအ
ဘုရားခေမုရှနှင့် ရွံရှာဖွယ်သော အမ္မုန်ဘုရား
မောလုတ်အဖို့၊ ယေရုရှလင်မြို့ရှေ့တော်၌ရှိသော
၈ တောင်ပေါ်တွင်၊ ကုန်းတို့ကိုတည်လေ၏။- ထိုထို
တို့ ဘုရားအား နံ့သာပေါင်းကို မီးရှို့၍၊ ယဇ်ပူ
ဇော်သောတပါးအမျိုးသားခင်ပွန်းအပေါင်းတို့
အဖို့ထိုသို့ပြု၏။
၉ အခြားတပါးသောဘုရားနောက်သို့မလိုက်ရ
၁၀ မည် အကြောင်း၊ ပညတ်တော်မူသော ဘုရား၊
နှစ်ကြိမ်ထင်ရှားတော်မူသောဣသရေလအမျိုး
၏ဘုရားသခင်ထာဝရဘုရားထံတော်မှ၊ ရှောလ
မုန်သည် စိတ်နှလုံးလွှဲသွား၍၊ မှာထားတော်
မူသော စကား ကို နား မထောင် သောကြောင့်၊
၁၁ ထာဝရဘုရားအမျက်ထွက်တော်မူလျက်- သင်
သည်ဤသို့ပြု၍ ငါဖွဲ့သောပဋိညာဉ်နှင့်၊ ငါမှာ
ထားသောတရားကိုမစောင့်ဘဲနေသောကြောင့်၊
နိုင်ငံတော်ကိုသင့်လက်မှ ငါဆက်ဆက်နှုတ်၍
၁၂ သင့်ကျွန်အားပေးမည်။-သို့ရာတွင်၊ သင့်အဖဒါ
ဝိဒ်၏ မျက်နှာကို ထောက်၍၊ သင့်လက်ထက်၌
ငါ သည်အံ ဦးမည်။ သင်၏ သား လက်မှ နိုင်ငံ
၁၃ တော် ကို နှုတ်မည်။- သို့သော်လည်း တနိုင်ငံ
လုံးကိုမနှုတ်။ ငါ့ကျွန် ဒါဝိဒ်နှင့် ငါရွေးကောက်
သော ယေရုရှလင် မြို့ကို ထောက်၍၊ သင့် သား
အား ခရိုင်တခရိုင်ကို ငါပေးမည်ဟု ရှောလမုန်
အားမိန့်တော်မူ၏။
၁၄ ထိုနောက်၊ ထာဝရဘုရားသည် ရှောလမုန်၌
ရန်ဘက်ပြုသောသူ၊ ဧဒုံအမျိုးသား ဟာဒဒ်ကို

နှိုးဆော်တော်မူ၏။ ထိုသူသည်ဧဒုံရှင်ဘုရင်အ
၁၅ မျိုးဖြစ်၏။- အထက်က ဒါဝိဒ်သည် ဧဒုံ ပြည်၌
၁၆ ရှိ၍၊ ဗိုလ်ချုပ် ယွာဘ သည် ဧဒုံ အမျိုး သား
ယောကျ်ားအပေါင်းတို့ကိုပယ်ဖြတ်မည်ဟု၊ ဣ
သရေလလူအပေါင်းတို့နှင့်၊ ဧဒုံပြည်၌ခြောက်
လနေပြီးမှ၊ အသေကောင်များကို မြေ၌ မြှုပ်စေ
၁၇ ခြင်းငှါ သွားစည်အခါ- ဟာဒဒ်သည် အသက်
ငယ်လျက်ပင်၊ အဘ၏ကျွန် ဧဒုံအမျိုးသားအချို့
.တို့နှင့်အတူ အဲဂုတ္တုပြည်သို့ရောက်အောင်ပြေး
၁၈ ၏။-မိဒျန်ပြည်မှထွက်၍၊ ပါရန်ပြည်သို့ရောက်
လေ၏။တဖန်ပါရန်ပြည်သားအချို့တို့ကိုခေါ်၍
အဲဂုတ္တု ပြည်၊ အဲဂုတ္တု ဖာရော ဘုရင် ထံ သို့
ရောက်လေသော်၊ ထိုမင်းသည် အိမ် နှင့်မြေကို
၁၉ ပေး၍ ကျွေးမွေးလေ၏။- ဖာရော ဘုရင်သည်
ဟာဒဒ်ကိုအလွန်ချစ်၍၊ မိမိခင်ပွန်းမိဖုရားတာ
၂၀ ပနက်၏ ညီမကို ပေးစား၏။- တာပနက်၏ ညီမ
သည် သားဂေနုဗတ်ကိုဖွားမြင်၍၊ တာပနက်
သည်နန်းတော်၌ နို့ခွါသဖြင့်၊ ဂေနုဗတ်သည်
နန်းတော်၌ ဖာရောဘုရင်၏ သားများနှင့်အတူ
၂၁ နေ၏။- ဒါဝိဒ် သည် ဘိုးဘေး တို့နှင့် အိပ်ပျော်
ကြောင်းနှင့်၊ ဗိုလ်ချုပ်မင်းယွာဘသေကြောင်း
ကို ဟာဒဒ် သည် အဲဂုတ္တု ပြည် ၌ ကြား သော
အခါ၊ အကျွန်ုပ်သည်ကိုယ်ပြည်သို့ပြန်သွားရ
သောအခွင့်ကို ပေးတော်မူပါဟု၊ ဖာရောဘုရင်
၂၂ အား တောင်းပန်လေ၏။- ဖာရောဘုရင်က၊ သင်
သည် ကိုယ်ပြည်သို့ ပြန်ချင်သောစိတ်ရှိမည်အ
ကြောင်း၊ ငါ့ထံမှာအဘယ်အရာလိုသေးသနည်း
ဟုမေးသော်၊ အဘယ်အရာမျှမလိုပါ။ သို့သော်
လည်း၊ သွားရသောအခွင့်ကို ပေးတော်မူပါဟု
၂၃ လျှောက်ပြန်လေ၏။- ရှောလမုန်၌ ရန်ဘက်ပြု
သောသူ တခြား၊ ဧလျာဒသား ရေဇုန်ကို ဘုရား
သခင် နှိုးဆော်တော်မူ၏။ ထိုသူသည် မိမိသခင်
၂၄ ဇောဘ မင်းကြီး ဟာဒဒေဇာ ထံမှပြေး၍- လူ
များကိုစုဝေးစေသဖြင့်၊ ဒါဝိဒ်မင်းလုပ်ကြံသော
အခါဗိုလ်ချုပ် လုပ်လေ၏။ တဖန် ဒမာသက်မြို့
၂၅ သို့ သွား၍ မင်းပြု လျက် နေ၏။- ဟာဒဒ် နှောင့်
ရှက်သော အမှုမှတပါး၊ ထိုသူသည် ရှောလမုန်
လက်ထက်ကာလပတ်လုံးဣသရေလအမျိုးကို
ရန်ဘက်ပြု၏။ ရှုရိပြည်ကိုအစိုးရ၍၊ ဣသရေ
လအမျိုးကိုစက်ဆုပ် ရွံရှာ၏။
၂၆ ထိုမှတပါး၊ ရှောလမုန်၏ကျွန်တယောက်၊ ဧ
ဖရိမ်အမျိုး၊ ဇေရေဒမြို့သား၊ နေဗတ်၏သားယေ
ရောဗောင်သည်လည်း ရှင်ဘုရင်ကို ပုန်ကန်၏။
သူ၏ အမိကား၊ ဇေရွာ အမည်ရှိသော မုဆိုးမ
၂၇ တည်း။- ရှင်ဘုရင်ကိုပုန်ကန်သောအကြောင်း
ဟူမူကား၊ ရှောလမုန်သည်မိလ္လောမြို့ကိုတည်
၍၊ ခမည်းတော်ဒါဝိဒ်၏မြို့ရိုးပျက်ကိုပြုပြင်သော
၂၈ အခါ- ယေရောဗောင်သည် ခွန်အားကြီးသောသူ
ရဲ ဖြစ်၏။ ကြိုးစားအားထုတ်တတ်သောလုလင်
ဖြစ်ကြောင်းကိုရှောလမုန်သည်မြင်လျှင်၊ ယော
သပ်အမျိုး ဆောင်ရွက်ရသော အမှု ရှိသမျှကို
၂၉ အုပ်စေခြင်းငှါခန့်ထားတော်မူ၏။- တရံရောအ
ခါ ယေရော ဗောင်သည် ယေရုရှလင် မြို့ပြင်သို့
ထွက်သွားသည်ရှိသော်၊ ရှိလောမြို့သား အဟိ
ယသည်ဝတ်လုံသစ်နှင့် ကိုယ်ကို ခြုံလျက်၊ ယေ
ရောဗောင်ကို ကြုံဆို၍၊ လယ် ပြင်၌ ထိုသူ နှစ်
၃၀ ယောက်တည်း ရှိစည်အခါ- အဟိယသည်မိမိ
ဝတ်သောဝတ်လုံသစ်ကိုကိုင်၍၊ ဆယ် နှစ်ပိုင်း
၃၁ ဆုတ်ဖြတ် ပြီးလျှင်- ယေရောဗောင် အား ဤ
ဆယ်ပိုင်းကိုယူလော့။ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ နိုင်
ငံတော်ကို ရှောလမုန် လက်မှ ငါနှုတ်၍၊ ခရိုင်
၃၂ ဆယ်ခရိုင်ကိုသင့်အားပေးမည်။- ငါ့ကျွန်ဒါဝိဒ်
အတွက်၊ ဣသရေလခရိုင်များ တို့တွင်၊ ငါရွေး
ကောက်သော ယေရုရှလင် မြို့အတွက်၊ ရှောလ
၃၃ မုန်သည်တခရိုင်ကိုယူရ၏။- ဆယ်ခရိုင်ကိုနှုတ်
ရသောအကြောင်းဟူမူကား၊ ငါ့ကိုစွန့်၍ဇိဒုန်
နတ်သမီး အာရှတရက်၊ မောဘ ဘုရား ခေမုရှ၊
အမ္မုန်ဘုရားမိလကုံတို့ကိုကိုးကွယ်သဖြင့်၊ အဘ
ဒါဝိဒ်ကဲ့သို့ ငါ့ရှေ့၌မှန်သောတရား၊ ငါစီရင်ထုံး
ဖွဲ့ချက်တို့ကိုစောင့်ရှောက်ခြင်းငှါ ငါ့လမ်းတို့သို့
၃၄ မလိုက်။-သို့ရာတွင်၊ နိုင်ငံတော်ကိုသူ၏ လက်မှ
ငါမ နှုတ် သေး။ ငါ ရွေး ကောက် ၍ ငါ့ပညတ်
တရားတို့ကိုစောင့်ရှောက်သော ငါ့ကျွန်ဒါဝိဒ်အ
တွက်၊ သားရှောလမုန်သည် တသက်လုံး မိုးစံ
၃၅ စေခြင်းငှါ ငါအခွင့်ပေး၏။- ရှောလမုန်၏သား
လက်မှနိုင်ငံတော်ကိုနှုတ်၍၊ ဆယ်ခရိုင်ကိုသင့်
၃၆ အား ငါပေးမည်။- ငါ့နာမတည်ရာအို့၊ ငါရွေး
ကောက် သော ယေရုရှလင် မြို့တွင်၊ ငါ့ရှေ့မှာ ငါ့
ကျွန်ဒါဝိဒ်၏ မီးခွက်သည် အစဉ် ထွန်း လင်း
လျက်ရှိစေခြင်းငှါ၊ ရှောလမုန်သားအားတခရိုင်
၃၇ ကို ငါပေး၏။- သင့်ကို ငါ ရွေးယူ၍၊ သင် သည်
ကိုယ်အလိုဆန္ဒပြည့်စုံစေခြင်းငှါ၊ မိုးစံလျက်ဣ
၃၈ သရေလအမျိုးတွင်မင်းပြုရ၏။- သင်သည်ငါမှာ

ထားသောမျှကို နားထောင်၍၊ ကျွန်ဒါဝိဒ် ပြုသ
ကဲ့သို့ငါ၏ ထုံးဖွဲ့တို့ကို လိုက်လျှောက်၊ ငါ့ရှေ့မှန်
သောအရာ၊ ငါ့စီရင်ချက်ပညတ်တို့ကို စောင့်
ရှောက်လျှင်၊ သင်နှင့်အတူငါရှိ၍ ဒါဝိဒ်အဘို့
မြဲသောအိမ်ကိုဆောက်သည်နည်းတူ၊သင့်အဘို့
၃၉ ဆောက်၍ ဣသရေလနိုင်ငံကိုငါပေးမည်။- ဤ
အကြောင်းကြောင့် ဒါဝိဒ်မင်းမျိုးကို ငါနှောင့်
ရှက်မည်၊ သို့ရာတွင်၊ အစဉ်နှောင့်ရှက်မည်မ
၄၀ ဟုတ်ဟုမိန့်တော်မူကြောင်းကိုဆင့်ဆို၏။-ရှော
လမုန်သည် ယေရောဗောင်ကို သတ်မည်ဟု
အားထုတ်သည်ရှိသော်၊ ယေရောဗောင်သည်
ထ၍အဲဂုတ္တုပြည်၊အဲဂုတ္တုရှင်ဘုရင်ရှိရှက်ထံ
သို့ပြေးသဖြင့်၊ရှောလမုန်သေသည်တိုင်အောင်
အဲဂုတ္တုပြည်၌နေလေ၏။
၄၁ ရှောလမုန်ပြုမူသော အမှုအရာ ကြွင်းလေသ
မျှနှင့်၊ သူ၏ပညာစကား၊သည်ရှောလမုန်ဝတ္ထု
၄၂ ၌ ရေးထားလျက် ရှိ၏။- ရှောလမုန်သည် ယေရု
ရှလင်မြို့၌နေ၍၊ ဣသရေလ နိုင်ငံလုံးကို အနှစ်
၄၃ လေးဆယ်မိုးစိုးပြီးမှ- ဘိုးဘေးတို့နှင့်အိပ်ပျော်
၍ခမည်းတော် ဒါဝိဒ် မြို့၌ သင်းဂြိုဟ်ခြင်းကို ခံ
လေ၏၊သားတော်ရောဗောင်သည် ခမည်းတော်
အရာ၌နန်းထိုင်၏။

၁၂

၁ ဣသရေလအမျိုးသားအပေါင်းတို့သည်ရော
ဗောင်ကို ရှင်ဘုရင် အရာ၌ ချီးမြှောက်ခြင်းငှါ၊
ရှေခင်မြို့သို့သွားကြ၍သူသည်လည်း သွား၏။-
၂ ရှောလမုန် မင်းကြီးထံမှ အဲဂုတ္တုပြည်သို့ ပြေး
သောနေဗတ်၏သားယေရောဗောင်သည် ထိုသိ
၃ တင်းကိုကြား၍အဲဂုတ္တုပြည်မှပြန်လာ၏။- ဣ
သရေလ လူတို့သည် သူထံသို့ လူကို စေလွှတ်၍
ခေါ်သဖြင့်၊ စည်းဝေးသော ပရိသတ်အပေါင်း
တို့သည်သူနှင့်အတူရောဗောင်ထံသို့ဝင်လျှက်-
၄ ခမည်းတော် သည် ကျွန်တော် တို့၌ လေးသော
ထမ်းဘိုးကိုတင်ပါပြီ။ ခမည်းတော်ထံမှာ ပင်
ပန်းစွာ ဆောင် ရွက် ရသော အမှု၊ တင်တော်မူ
သောထမ်းဘိုးလေးကို ပေါ့စေတော်မူပါ၊ ထိုသို့
ပြုတော်မူလျှင်၊ကျွန်တော်တို့သည်အမှုတော်ကို
၅ ထမ်းပါမည်ဟု လျှောက် ဆိုကြ၏။- ရောဗောင်
ကလည်း၊သင်တို့သွားကြဦးလော့၊သုံးရက်လွန်
မှတဖန် လာကြဦးလော့ဟု မိန့်တော်မူလျှင်၊ သူ
၆ တို့သည် သွားကြ၏။- ထိုအခါ ရောဗောင် မင်း
ကြီးသည် ခမည်းတော် ရှောလမုန် အသက်ရှင်
စဉ်အခါ၌အထံတော်၌ခစားသော အသက်ကြီး
သူတို့နှင့်တိုင်ပင်၍၊ ဤသူတို့အားငါပြန်ပြောရ
မည့်အကြောင်း။ အဘယ်သို့အကြံပေးကြမည်
၇ နည်းဟုမေးသော်- သူတို့က၊ ကိုယ်တော်သည်
ယနေ့ ဤသူတို့ ၏ ကျွန် ခံလျက်၊ သူတို့ အမှု ကို
ဆောင်၍ကောင်းသောစကားနှင့်ပြန်ပြောတော်
မူလျှင်၊ သူတို့သည်အစဉ်ကိုယ်တော်၏ကျွန်ခံ
၈ ကြပါလိမ့်မည်ဟု လျှောက် ထားကြ၏။- အ
သက် ကြီးသူ တို့ ပေးသော အကြံကို ရောဗောင်
သည် မလိုက်၊ ခစား၍ ခစားသော မိမိ သူငယ်
၉ ချင်းတို့နှင့် တိုင်ပင်လျက်- ပြည်သားတို့ က၊
ခမည်းတော် တင်သောထမ်းဘိုးကိုပေါ့စေတော်
မူပါဟု လျှောက် ဆိုကြသည်ဖြစ်၍၊ သူတို့အား
ငါပြန်ပြောရမည့်အကြောင်း၊အဘယ်သို့အကြံ
၁၀ ပေးကြမည်နည်းဟုမေးသော်- ထိုသူငယ်ချင်း
တို့က၊ ခမည်းတော် သည်ကျွန်တော်တို့၌
ထမ်းဘိုးကိုလေးစေပါပြီ။ ပေါ့စေတော်မူပါဟု
လျှောက်သော ပြည်သားတို့အား ကိုယ်တော်
က၊ ငါ့လက်သန်းသည်ငါ့ခမည်း တော် ခါးထက်
၁၁ သာ၍ကြီးလိမ့်မည်။- ငါ့ခမည်းတော်သည်သင်
တို့အပေါ်မှာ လေးသော ထမ်းဘိုး ကို တင်သေ
ပြီ၊ ငါသည်လည်းထပ်၍တင်ဦးမည်၊ငါ့ခမည်း
တော်သည် သင်တို့ကိုကြိမ်လုံးနှင့်ရိုက်သေပြီ၊
ငါ သည်လည်း၊ ကင်းမြီးကောက်နှင့် ရိုက် ဦး
မည်ဟု ပြန်ပြောတော်မူပါဟုလျှောက်ထားကြ
၁၂ ၏။- ရှင်ဘုရင်က၊ သုံးရက် မြောက်သော နေ့ ၌
တဖန် လာကြဦးလော့ဟု၊ နေ့ရက်ကိုချိန်းချက်
သည်အတိုင်း၊ သုံးရက်မြောက်သောနေ့၌ယေ
ရောဗောင်နှင့် လူအပေါင်း တို့သည် ရောဗောင်
၁၃ ထံသို့ရောက်လာကြ၏။-ရှင်ဘုရင်သည်အသက်
ကြီးသူတို့ ပေးသော အကြံကို မလိုက်၊ လုလင်တို့
၁၄ ပေးသော အကြံကို လိုက်လျက်- ငါ့ခမည်းတော်
သည်သင်တို့အပေါ်မှာ လေးသော ထမ်းဘိုးကို
တင်သေပြီ၊ ငါသည်လည်းထပ်၍တင်ဦးမည်၊
ငါ့ခမည်းတော် သည် သင် တို့ကို ကြိမ်လုံး နှင့်
ရိုက်သေပြီ၊ငါသည်လည်းကင်းမြီးကောက်နှင့်
ရိုက်ဦးမည်ဟု ကြမ်းတမ်းစွာ ပြန်ပြောတော်မူ
၁၅ ၏။-ရှင်ဘုရင်သည်ပြည်သားတို့၏စကားကိုနား
မထောင်ရသည့်အကြောင်းကား၊ ထာဝရဘုရား
သည်ရှိလောမြို့သား အဟိယအားဖြင့်၊ နေဗတ်
၏သား ယေရောဗောင် အား မိန့်တော် မူသော
စကားကို ပြည့်စုံစေတော်မူမည့် အကြောင်း

၁၆ တည်း။- ဣသရေလ အမျိုးသား အပေါင်း တို့
သည် ရှင်ဘုရင် နားမထောင်ကြောင်းကို သိမြင်
လျှင်၊ ငါတို့သည် ဒါဝိဒ်နှင့်အဘယ်သို့ ဆက်ဆံ
သနည်း။ ယေရှဲ၏သားနှင့်အဘယ်သို့အမွေခံရ
သေးသနည်း။ အိုဣသရေလ အမျိုး၊ သင်တို့နေ
ရာသို့သွားကြ။ အိုဒါဝိဒ်၊ သင်၏အိမ်ကိုကြည့်ရှု
လော့ဟု ရှင်ဘုရင် အား ပြန်ပြော လျက်၊ ဣသ
ရေလ လူ တို့သည် မိမိတို့ နေရာသို့ ပြန်သွားကြ
၁၇ ၏။- သို့ရာတွင်၊ ယုဒမြို့ရွာတို့၌နေသောဣသရေ
လလူတို့ကို ရောဗောင်သည် အုပ်စိုးရသေး၏။-
၁၈ ထိုအခါ ရောဗောင် မင်းကြီး သည် အခွန် တော်
ဝန် အဒေါနိရံကို စေလွှတ်၍၊ ဣသရေလ လူ အ
ပေါင်းတို့သည် သူကို သေအောင် ကျောက်ခဲနှင့်
၁၉ ပစ် ကြ ၏။- ရောဗောင် မင်းကြီး သည် ရထား
တော်ကိုအလျင်အမြန်တက်၍ယေရုရှလင်မြို့သို့
ပြေးလေ၏။ ထိုသို့ဣသရေလအမျိုးသည် ယနေ့
တိုင်အောင် ဒါဝိဒ် မင်း မျိုးကို ပုန်ကန် ကြ ၏။-
၂၀ ယေရောဗောင် ပြန်လာ ကြောင်းကို ဣသရေလ
အမျိုးသားအပေါင်းတို့သည် ကြားသောအခါ၊
လူကိုစေလွှတ်၍၊ ယေရောဗောင်ကိုစည်းဝေးရာ
ပရိသတ်ထံသို့ခေါ်ပြီးလျှင်၊ ဣသရေလအမျိုး
ကိုအုပ်စိုးသောရှင်ဘုရင်အရာ၌ချီးမြှောက်ကြ
၏။ ယုဒအမျိုးမှတပါး၊ အဘယ်အမျိုးမျှ ဒါဝိဒ်
မင်းမျိုးသို့မဆည်းကပ်။
၂၁ ရောဗောင် သည် ယေရု ရှလင် မြို့သို့ ရောက်
သောအခါ၊ ဣသရေလအမျိုးကိုစစ်တိုက်၍၊ နိုင်
ငံတော်ကို ရှောလမုန်သား ရောဗောင် ထက်သို့
ရောက်ပြန်စေခြင်းငှါ၊ ဗင်္ယာမိန်အမျိုးနှင့်တကွ
ယုဒအမျိုးသား အပေါင်းတို့နှင့် ရွေးချယ်သော
စစ်သူရဲတသိန်းရှစ်သောင်းတို့ကို စုဝေးစေ၏။-
၂၂ သို့ရာ တွင်၊ ဘုရား သခင်၏ နှုတ်ကပတ် တော်
သည်ဘုရားသခင်၏ လူရှေမာယသို့ ရောက်၍-
၂၃ သင်သည် ရှောလမုန်သား၊ ယုဒရှင်ဘုရင်ရော
ဗောင်နှင့်ယုဒအမျိုး၊ ဗင်္ယာမိန်အမျိုးသားများ၊
ကျန်ကြွင်းသောသူများတို့အားထာဝရဘုရား၏
၂၄ အမိန့် တော်ကို ဆင့် ဆို ရမည် မှာ။- သင်တို့ ညီ
အစ်ကိုဖြစ်သော ဣသရေလ အမျိုးသား တို့ကို
စစ်တိုက်ခြင်းငှါ၊ ချီ၍ မသွားကြနှင့်။ လူအပေါင်း
တို့၊ ကိုယ် နေရာသို့ ပြန်သွား ကြလော့။ ဤအမှု
သည်ငါအခွင့် ပေးသောကြောင့် ဖြစ်၏ဟု၊ မိန့်
တော်မူသောထာဝရဘုရား၏စကားတော်ကိုနား
ထောင်၍၊ စကားတော်အတိုင်းပြန်သွားကြ၏။
၂၅ ထိုနောက်၊ ယေရောဗောင်သည်ဧဖရိမ်တောင်
ပေါ်မှာ ရှေခင်မြို့ကိုတည်၍ နေရာချ၏။ ထိုမြို့မှ
၂၆ သွား၍ပေနွေလမြို့ကိုလည်းတည်၏။-ယေရော
ဗောင်က၊ ဤနိုင်ငံသည် ဒါဝိဒ်မင်းမျိုး ထက်သို့
၂၇ ပြန်ကောင်းပြန်လိမ့်မည်။- ပြည်သားတို့သည်
ထာဝရဘုရား၏ ဗိမာန် တော်၌ ယဇ် ပူဇော်
ခြင်းငှါယေရုရှလင် မြို့သို့သွားလျှင်၊ သူတို့စိတ်
နှလုံးသည် မိမိတို့ သခင်၊ ယုဒရှင်ဘုရင် ရော
ဗောင်ထက်သို့ ပြောင်းလဲ၍၊ ငါ့ကိုသတ်ပြီးမှ၊ ယု
ဒရှင်ဘုရင်ရောဗောင်ထက်သို့တဖန်ဝင်စားကြ
၂၈ လိမ့်မည်ဟုအောင်းမေ့သောကြောင့်- သူတပါး
နှင့်တိုင်ပင်၍၊ ရွှေနွားသငယ်နှစ်ကောင်ကိုလုပ်
ပြီးလျှင်၊ သင်တို့သည်ယေရုရှလင်မြို့သို့သွားရ
သောအမှုခက်လှ၏။ အိုဣသရေလအမျိုး၊ သင်
တို့ကို အဲဂုတ္တုပြည်မှ နှုတ်ဆောင်သောဘုရား
၂၉ တို့ကိုကြည့်ရှုကြလော့ဟု ဆိုလျက်- ဗေသလမြို့
၌တကောင်၊ ဒန်မြို့၌ တကောင်ကို ထားသဖြင့်-
၃၀ ဖြစ်မှားစရာအကြောင်းကိုပြုလေ၏။ ပြည်သား
တို့သည်နွားသငယ်ကို ကိုးကွယ်ခြင်းငှါ၊ ဒန်မြို့
၃၁ တိုင်အောင် သွားတတ် ကြ၏။- ယေရောဗောင်
သည် လည်း၊ မြင့်သော အရပ် ပေါ်မှာ အိမ်ကို
ဆောက်၍၊ လေဝိသားမဟုတ်သောသာမညလူ
တို့ကိုယဇ်ပုရောဟိတ်အရာ၌ ခန့်ထားလေ၏။-
၃၂ ယုဒပြည်၌ခံသောပွဲကဲ့သို့အဋ္ဌမလတဆယ်ငါး
ရက်နေ့တွင် ပွဲကို စီရင်၍၊ ယဇ်ပလ္လင် ပေါ်မှာ
ပူဇော်၏။ ထိုသို့ ဗေသလ မြို့၌ စီရင်၍၊ မိမိလုပ်
သော နွားသငယ် တို့အား ယဇ်ပူဇော်၏။ မြင့်
သော အရပ်၌ ခန့်ထား သော ယဇ်ပုရောဟိတ်
၃၃ တို့ ကိုလည်း ဗေသလ မြို့မှာ နေရာချ၏။- ထိုသို့
ကိုယ်အလိုအလျောက်ချိန်းချက်သော အဋ္ဌမလ
တဆယ် ငါးရက်နေ့တွင်၊ ဗေသလမြို့၌ မိမိလုပ်
သောယဇ်ပလ္လင်ပေါ်မှာပူဇော်၏။ ဣသရေလအ
မျိုးသားတို့အား ပွဲကိုလည်းစီရင်၏။ ယဇ်ပလ္လင်
ပေါ်မှာယဇ်ပူဇော်၍၊ နံ့သာပေါင်းကိုမီးရှို့၏။

## ၁၃

၁ ထိုအခါယေရောဗောင်သည် နံ့သာပေါင်းကို
မီးရှို့ခြင်းငှါ၊ ယဇ်ပလ္လင်နားမှာရပ်နေစဉ်တွင်၊
ဘုရား သခင်၏ လူ တယောက် သည် ထာဝရ
ဘုရား၏ နှုတ်ကပတ်တော် အတိုင်း၊ ယုဒပြည်
၂ မှဗေသလမြို့သို့ရောက်လာ၍-ထာဝရဘုရား၏
နှုတ်ကပတ်တော်အတိုင်း၊ ယဇ်ပလ္လင်တဖက်
၌ကြွေးကြော်လျက်အိုယဇ်ပလ္လင်၊ ယဇ်ပလ္လင်၊

ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဤနိမိတ်မင်း
ရှိမှ၌သောရှိ ခံမည်ရှိသော သူကို ဖွားမြင်လိမ့်
မည်။ ထင့်အပေါ်မှာနှံ့သောပေါင်းကိုမီး၌မြင်၍၊ မြင့်
သောအရပ်၌ ယဇ်ပရောဟိတ်လုပ်သောသူတို့
ကိုထိုသူသည် ထင့်အပေါ်မှာပူဇော်၍၊ လူသေ
အရိုးတို့ကိုမီး၌လိမ့်မည်ဟု၊မိန့်တော်မူကြောင်း
၃ ကိုဆင့်ဆို၏။-ထိုနေ့ချင်းတွင်ပုပ္ပနိမိတ်ကိုလည်း
ပေး၍၊ ထာဝရဘုရား မိန့်တော်မူသော ပုပ္ပနိ
မိတ်ဟူမူကား၊ ယဇ်ပလ္လင် သည် ကွဲ၍၊ ပလ္လင်
ပေါ်မှာ ရှိသောပြာလည်း ယိုကျ လိမ့်မည်ဟု
၄ ဟောသေ၏။- ထိုသို့ဘုရားသခင်၏ လူသည်ဗေ
သလမြို့ ယဇ်ပလ္လင်တဖက်၌ ဟွေးကြော်သော
စကားကို ယေရောဗောင် မင်းကြီးသည် ကြား
လျှင်၊ ယဇ်ပလ္လင်ပေါ်မှာ ရှိသော မိမိလက်ကို
ဆန့်၍၊ ထိုသူကိုဖမ်းဆီး ကြလောဟုဆိုလျှက်၊ ဆန့်
သောလက်သည်ခြောက်သွေ့ခြောက်၍၊နောက်တဖန်မ
၅ ရုပ်နိုင်။-ဘုရားသခင်၏လူသည်ထာဝရဘုရား
၏နှုတ်ကပတ်တော်အတိုင်းပေးသောပုပ္ပနိမိတ်
နှင့်အညီ၊ ယဇ်ပလ္လင် ကွဲ၍၊ ပြာသည်လည်း
၆ ပလ္လင်ပေါ်ကယိုကျသေ၏။-ရှင်ဘုရင်ကလည်း၊
ငါ၏လက်၌ ရောက်သောရောဂါကိုပျောက်စေမည်
အကြောင်း၊ ငါ့အတွက်ပဌနာပြု၍၊သင်၏ဘုရား
သခင်ထာဝရဘုရား ရှေ့တော်၌ တောင်းပန်ပါ
လော့ဟု၊ဘုရားသခင်၏လူကိုပြောဆို၏။ဘုရား
သခင်၏ လူသည် ထာဝရဘုရားကို တောင်းပန်
သဖြင့်၊ ရှင်ဘုရင်လက်သည် ရောဂါပျောက်၍၊
၇ ပကတိအတိုင်းဖြစ်လေ၏။-ရှင်ဘုရင်ကလည်း၊
ငါ နှင့် အတူ လိုက်၍ အား ဖြည့် လော့၊ လက်
ဆောင် ပေး မည်ဟု ဘုရား သခင်၏ လူအား ဆို
၈ လျှင်- ဘုရားသခင်၏လူက၊ နန်းတော် တဝက်
ကိုပေးသော်လည်း၊သင်နှင့်အတူငါမလိုက်။ ဤ
အရပ်၌ မုန့်ကို မစား၊ ရေကို လည်း မသောက်
၉ ရ။- ထာဝရဘုရား၏ နှုတ်ကပတ် တော်က၊ မုန့်
ကို မစားနှင့်၊ ရေကို မသောက်နှင့်၊ လာ သော
လမ်းဖြင့်မပြန်နှင့်ဟု၊ ငါ့အားပညတ်တော်မူပြီ
၁၀ ဟုရှင်ဘုရင်အားပြောဆို၏။- ထိုနောက်၊ ဗေသ
လမြို့သို့လာသောလမ်းကိုရှောင်၍အခြားသော
လမ်းဖြင့်ပြန်သွား၏။
၁၁ ထိုကာလ၌ဗေသလမြို့တွင်အသက်ကြီးသော
ပရောဖက် တယောက်ရှိ၏။ သူ၏သား တို့သည်
လာ၍၊ ဘုရားသခင်၏လူသည်ထိုနေ့၌ဗေသလ
မြို့မှာ ပြုသော အမှု ရှိသမျှ နှင့်၊ ရှင်ဘုရင် အား

ပြောသော စကား များကို အဖ အား ပြန်ကြား
၁၂ လျှင်- ယုဒပြည်မှ လာသော ဘုရား သခင်၏ လူ
သည် အဘယ် လမ်းဖြင့် ပြန်သွားသည်ကို မြင်
ကြသနည်းဟု၊ အဖက၊ ထိုသူသည်အဘယ်
၁၃ လမ်းဖြင့် ပြန်သွားသနည်းဟု မေးပြီးလျှင်- မြည်း
ကိုကုန်းနှီး တင်ကြလော့ဟု ဆိုသည် အတိုင်း၊
သားတို့သည်မြည်းကိုကုန်းနှီးတင်၍၊အဖသည်စီး
၁၄ သွားလျှက်- ဘုရားသခင်၏လူကိုလိုက်သော၊
သပိတ် ပင် အောက် မှာ ထိုင် လျှက် ရှိသည် ကို
တွေ့လျှင်၊သင်သည်ယုဒပြည်မှလာသောဘုရား
သခင်၏လူမှန်သလောဟုမေးသော်၊ငါမှန်သည်
၁၅ ဟုပြန်ဆို၏။- ပရောဖက်ကလည်း၊ငါနှင့်အတူ
ငါ့အိမ်သို့လိုက်၍၊မုန့်ကိုစားပါလော့ဟုခေါ်ပြန်
၁၆ လျှင်-ငါသည်သင်နှင့်အတူမလိုက်ရ၊သင့်အိမ်
သို့မဝင်ရ။ ဤအရပ်၌မုန့်ကိုမစား၊ရေကိုလည်း
၁၇ မသောက်ရ။-ထာဝရဘုရားက၊ထိုအရပ်၌မုန့်
ကို မစားနှင့်၊ ရေကို မသောက် နှင့်၊ လာ သော
လမ်း ဖြင့် မ ပြန် နှင့် ဟု၊ ငါ့ အား မိန့် တော် မူ
၁၈ ကြောင်းကို ပြောဆို၏။- ပရောဖက် ကလည်း၊
ငါသည် သင်ကဲ့သို့ ပရောဖက်ဖြစ်၏။ သင်သည်
မုန့်ကိုစား၍ရေကိုသောက်စေခြင်းငှါ၊သင့်ကိုင
အိမ်သို့ခေါ်ရမည်အကြောင်း၊ ကောင်းကင်တ
မန်သည် ထာဝရ ဘုရား၏ နှုတ်ကပတ် တော်
အားဖြင့်မှာထားပြီဟု၊မုသာသုံး၍ပြောဆို၏။-
၁၉ ထိုကြောင့်၊ ဘုရားသခင်၏ လူသည် ပရောဖက်
နှင့်အတူ ပြန်လာ၍၊ သူ၏အိမ်မှာ မုန့်ကိုစား၏။
၂၀ ရေကိုလည်းသောက်၏။- ထိုသူနှစ်ပါးတို့သည်
စားပွဲနားမှာ ထိုင် စဉ် တွင်၊ ခေါ်ခဲ့သော ပရော
ဖက်သို့ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂၁ ရောက်၍- ယုဒပြည်မှလာသောဘုရားသခင်၏
လူအား၊ သင်သည် ထာဝရဘုရား၏ နှုတ်တော်
ထွက်ကို နားမထောင်၊ သင်၏ ဘုရားသခင်ထာ
ဝရဘုရားထားတော်မူသော ပညတ်တော်ကိုမ
၂၂ စောင့်။- ဤမည်သောအရပ်၌ မုန့်ကိုမစားနှင့်၊
ရေကို မသောက်နှင့်ဟု ပညတ်တော်မူသော အ
ရပ်သို့ ပြန် လာ ၍၊ မုန့် နှင့် ရေ ကို စား သောက်
သောကြောင့်၊ သင်၏အလောင်းသည် ဘိုးဘေး
တို့၏သင်းချိုင်းသို့မရောက်ရဟု၊ထာဝရဘုရား
မိန့်တော်မူကြောင်းကို အော်ဟစ်၍ ဆင့်ဆို၏။-
၂၃ မုန့်နှင့် ရေကို စား သောက် ပြီးမှ၊ ထိုပရောဖက်
သည် ပြန်လာသော ပရောဖက် အဖို့၊ မိမိမြည်းကို
၂၄ ကုန်းနှီး တင် ၍ ထွက် လိုက် သော်။- ထမ်းမှာ

ခြင်္သေ့ တွေ့၍သတ်၏၊ အသေကောင်သည်ထမ်း
ခွဲထဲ၍၊ မြည်းနှင့်ခြင်္သေ့သည်အနားမှာရပ်နေ၏။-
၂၅ အသေကောင်သည်ထမ်းခွဲထဲ၍၊ မြည်းနှင့်ခြင်္သေ့
သည် အနားမှာရပ်နေသည်ကို၊ ခရီးသွားသော
သူတို့သည် မြင်လျှင်၊ အသက်ကြီးသော ပရော
ဖက် နေသော မြို့သို့လာ၍ သိတင်းပြောကြ၏။-
၂၆ ခေါ်ခဲ့သောပရောဖက်သည်ထိုသိတင်းကိုကြား
လျှင်၊ ထာဝရဘုရား၏ အမိန့်တော်ကို နား မ
ထောင် သော ဘုရားသခင်၏ လူ ဖြစ်လိမ့်မည်။
ထာဝရဘုရားသည်ထိုသူအားမိန့်တော်မူသော
စကားအတိုင်း၊ သူ့ကိုခြင်္သေ့၌ အပ်တော်မူသ
ဖြင့်၊ ခြင်္သေ့သည် ကိုက် သတ်လေပြီ တကား။
၂၇ ဟုဆိုလျှက်၊ မြည်းပေါ်မှာကုန်းနှီးကိုတင်ကြလော့
ဟု၊ သားတို့အား ဆိုသည် အတိုင်း၊ သူတို့သည်
၂၈ ကုန်းနှီးတင်ကြ၏။- ပရောဖက်သွား၍၊ အသေ
ကောင် သည် ထမ်းခွဲ ထဲလျှက်၊ မြည်းနှင့် ခြင်္သေ့
သည် အနားမှာ ရပ်နေလျှက် ရှိသည်ကို တွေ့၏၊
ခြင်္သေ့ သည် အသေ ကောင် ကို မ စား၊ မြည်း ကို
၂၉ လည်း မကိုက်။- အသက် ကြီး သော ပရောဖက်
သည် ဘုရားသခင် ၏ လူ အလောင်းကောင် ကို
မြည်းပေါ်သို့ရွှေ့၍ တင်ပြီးလျှင်၊ ငိုကြွေးမြည်တမ်း
ခြင်းကိုပြု၍၊ သင်းဂြိုဟ်ခြင်းငှါမိမိမြို့သို့ဆောင်
၃၀ သွား၏။- အလောင်းကောင်ကို မိမိ သင်း ချိုင်း
တွင်း၌ ထားလျှက်၊ အို ငါ့ညီဟူ၍ ငိုကြွေး မြည်
၃၁ တမ်းခြင်းကိုပြု၏။-သင်းဂြိုဟ်ပြီးမှ၊သားတို့ကို
ခေါ်၍၊ ငါသေသောအခါဘုရားသခင်၏လူသင်း
ချိုင်းတွင်း၌ သင်းဂြိုဟ်ကြလော့။ ငါ့အရိုးတို့ကို
၃၂ သူ့အရိုးတို့အနားမှာထားကြလော့။- ဗေသလ
မြို့ ယဇ်ပလ္လင် တဘက်၊ ရှမာရိ မြို့ရွာ တွင်၊ မြင့်
သော အရပ်ပေါ်မှာ ဆောက်သော အိမ်ရှိသမျှ တ
ဘက်၊ ထာဝရ ဘုရား၏ နှုတ်ကပတ်တော် အ
တိုင်း၊ကြွေးကြော်သောစကားသည်စင်စစ်ပြည့်
စုံလိမ့်မည်ဟုမှာထားလေ၏။
၃၃ ထိုနောက်မှ၊ ယေရောဗောင်သည် မိမိ အဓမ္မ
ထုံးကိုမရှောင်၊ အောက်ကျသောလူတို့ကို မြင့်သောအ
ရပ်တွင်၊ ယဇ်ပုရောဟိတ် အရာ၌ ထပ် ၍ ခန့်
ထား၏။ ယဇ်ပုရောဟိတ်လုပ်ချင်သောသူ ရှိသ
မျှကို ရွေးကောက် သဖြင့်၊ သူတို့ သည် မြင့်သော
၃၄ အရပ်တွင်ယဇ်ပုရောဟိတ်ဖြစ်ကြ၏။- ထိုသို့ပြု
သောကြောင့်၊ ယေရောဗောင်အမျိုးကိုမြေကြီး
မြင်မှသုတ်သင်ပယ်ရှင်းစေသော အပြစ်ရောက်
လေသည်။

၁၄

၁ ထို အခါ ယေရောဗောင် ၏ သား အဘိယ
၂ သည် နာ သောကြောင့်- ယေရောဗောင် သည်
မိမိမယားကိုခေါ်၍၊သင်သည်ယေရောဗောင်၏
မယား ဖြစ်သည်ကို အဘယ်သူမျှ မသိစေခြင်း
ငှါ၊ ခြား နား သော အဆင်း၊ အရောင်ကို ဆောင်
ပြီး လျှင်၊ ရှိလော မြို့သို့ ထ သွား ပါ လော့။ ငါ
သည် ဤလူမျိုးကို မိုးစံရမည် အကြောင်းကိုပြ
သောပရောဖက် အဟိယ သည် ထိုမြို့၌ ရှိ၏။-
၃ မုန့်ဆယ်လုံး၊ မုန့်ပြားအချို့၊ ပျားရည် ဘူးကို
ဆောင်လျှက်၊ ပရောဖက်ထံသို့ သွားပါလော့။
သူငယ်၌ အဘယ်သို့ ဖြစ်မည်ကို သူပြောလိမ့်
၄ မည်ဟု မှာထားသည့်အတိုင်း၊- ယေရောဗောင်
မယားသည်ထ၍၊ ရှိလောမြို့၌ အဟိယအိမ်သို့
သွားလေ၏။ထိုအခါအဟိယသည်အသက်ကြီး
၅ သောကြောင့်မျက်စိမမြင်၊မှုန်လျှက် ရှိ၏။- ထာ
ဝရဘုရား က လည်း၊ ယေရောဗောင် မယား
သည်၊သားနာသောကြောင့်၊ သားအတွက်တစုံ
တခုကို တောင်းအံ့သောငှါ သင့်ဆီသို့ လာရလာ
၏။ ဤမည်သောစကားဖြင့်ပြန်ပြောရမည်။သူ
သည်လာသောအခါအခြားသော မိန်းမဖြစ်ရောင်
ဆောင် လိမ့်မည်ဟု၊ အဟိယ အား မိန့်တော်မူ
၆ ၏။-ထိုမိန်းမသည်တံခါးအထဲသို့ဝင်၍၊နင်းသံကို
အဟိယ သည် ကြား လျှင်၊ အို ယေရောဗောင်
မယား၊ဝင်လော့။အဘယ်ကြောင့်အခြားသော
သူ၏အရောင်ကိုဆောင်သနည်း။ဝမ်းနည်းစရာ
သိတင်းကို ကြားပြောစေခြင်းငှါ၊ သင့်ဆီသို့ ငါ
၇ ကိုစေလွှတ်တော်မူ၏။-သင်သည်ဣသရေလအ
မျိုး၏ဘုရားသခင်ထာဝရဘုရား၏ အမိန့်တော်
ကို၊ယေရောဗောင်ထံသို့သွား၍ ဆင့်ဆိုရမည်
မှာ၊သင့်ကိုလူစုထဲကငါရွေး၍၊ ငါ၏လူဣသရေ
လအမျိုးကိုအုပ်စိုးစေခြင်းငှါ ချီးမြှောက်လျှက်-
၈ နိုင်ငံတော်ကိုဒါဝိဒ်မင်းမျိုးထက်မှနှုတ်၍၊ သင့်
အားပေးသော်လည်း၊သင်သည်ငါ့ကျွန်ဒါဝိဒ်ကဲ့
သို့မဟုတ်။သူသည်ငါ့ပညတ်တို့ကိုစောင့်ရှောက်
၏။ ငါ့ရှေ့မှာ ကောင်းသော အကျင့်ကိုသာ ကျင့်
မည်ဟု၊ စိတ်နှလုံးအကြွင်းမဲ့ငါ့ကိုဆည်းကပ်
၉ ၏။-သင်မူကား၊ သင့်ရှေ့မှာဖြစ်ဘူးသော သူအ
ပေါင်းတို့ကို လွန်၍ ဒုစရိုက်ကို ပြုလေပြီ။ ငါ့အ
မျက်ကို နှိုးဆော် ခြင်းငှါ၊ အခြား တပါးသော
ဘုရားနှင့် သွန်းသော ရုပ်တုတို့ကိုလုပ်၍၊ ငါ့ကို
၁၀ သင့် ကြောခုနောက်သို့ ပစ်ထားပြီ။- ထိုကြောင့်

ယေရောဗောင်အမျိုး၊ အပေါ်သို့ ဘေး ဥပါဒ်
ရောက်စေမည်။ ဣသရေလ မြို့ရွာ၌ အချုပ်ခံ
သောသူဖြစ်စေ၊ အလွတ်ပြေးသောသူဖြစ်စေ၊
ယေရောဗောင် အမျိုး ယောကျ်ားများကို ပယ်
ဖြတ်မည်။ လူသည်နွားချေးကိုအကုန်အစင်
ကျုံးသွားသကဲ့သို့၊ ကျန်ကြွင်းသော ယေရော
၁၁ ဗောင်အမျိုးကိုပယ်သွားမည်။-ယေရောဗောင်
အမျိုးသားသည် မြို့ထဲမှာ သေလျှင်၊ အသေ
ကောင်ကို ခွေး စား လိမ့်မည်။ မြို့ပြင်မှာ သေ
လျှင်၊ မိုဃ်းကောင်းကင်ငှက် စားလိမ့်မည် အ
၁၂ ကြောင်း၊ ထာဝရဘုရားမိန့်တော်မူပြီ။- သင်ထ
၍ ကိုယ်အိမ်သို့ သွားလော့။ မြို့တံခါး အထဲသို့
၁၃ ဝင်သောအခါသူငယ် သေလိမ့်မည်။- ဣသရေ
လအမျိုးသား အပေါင်း၊ တို့သည် ငိုကြွေးမြည်
တမ်းခြင်းကိုပြု၍သင်းဂြိုဟ်ကြလိမ့်မည်။ ယေ
ရောဗောင် အမျိုး သားစု တွင်၊ ထိုသူငယ် တ
ယောက်တည်းသာ သင်းဂြိုဟ်ခြင်းကို ခံရလိမ့်
မည်။ အကြောင်းမူကား၊ ယေရောဗောင်အမျိုး
သားစုတွင်ထိုသူငယ်တယောက်သည်ဣသရေ
လအမျိုး၏ ဘုရားသခင်ထာဝရဘုရား၌ကြည်
၁၄ ညိုသော စိတ်ရှိ၏။- အချိန် ရောက်မှ ယေရော
ဗောင်အမျိုးကိုပယ်ဖြတ်လတံ့သောဣသရေလ
ရှင်ဘုရင်တပါးကို ထာဝရဘုရားသည် မိမိအဖို့
ပေါ်ထွန်းစေတော်မူမည်။ အဘယ်အချိန်နည်း
၁၅ ယခုမေးသော်၊ယခုပင်ဖြစ်လိမ့်မည်။-အာရှရပင်
တို့ကိုပြုစု၍ထာဝရဘုရား၏အမျက်တော်ကိုနှိုး
ဆော် ကြ သောကြောင့်၊ ကျူပင်ကို ရေ၌ လှုပ်
ရှားသကဲ့သို့၊ ထာဝရဘုရားသည်ဣသရေလအ
မျိုးကိုဒဏ်ခတ်၍၊ ဘိုးဘေးတို့အားပေးတော်
မူသောဤပြည်ကောင်းမှနှုတ်ပယ်ပြီးလျှင်၊မြစ်
ကြီး တဖက်၌ အရပ်ရပ်သို့ ကွဲပြား စေတော်မူ
၁၆ မည်။-ကိုယ်တိုင်ပြစ်မှား၍ဣသရေလအမျိုးကို
လည်းပြစ်မှားစေသော ယေရောဗောင်၏အပြစ်
တို့ကြောင့်၊ ဣသရေလအမျိုးကို စွန့်ပစ်တော်မူ
၁၇ မည်ဟုဆင့်ဆိုလေ၏။- ယေရောဗောင် မယား
သည် ထသွား၍၊ တိရဇမြို့ တံခါး ခုံသို့ ရောက်
၁၈ သောအခါသူငယ်သေ၏။-ထာဝရဘုရားသည်
မိမိကျွန်ပရောဖက်အဟိယအားဖြင့်မိန့်တော်မူ
သည်အတိုင်း၊ ထိုသူငယ်ကို သင်းဂြိုဟ်၍၊ ဣသ
ရေလအမျိုးသားအပေါင်းတို့သည်ငိုကြွေးမြည်
တမ်းခြင်းကိုပြုကြ၏။
၁၉ ယေရောဗောင်ပြုမူသော အမှုအရာကြွင်းသ
မျှ၊ စစ်တိုက်ခြင်းအမှု၊ မင်းပြုခြင်းအမှုတို့သည်
၂၀ ဣသရေလရာဇဝင်၌ရေးထားလျက်ရှိ၏။-ယေ
ရောဗောင်သည်အနှစ်နှစ်ဆယ်နှစ်နှစ်စိုးစံပြီး
မှ ဘိုးဘေးတို့နှင့် အိပ်ပျော်၍၊ သားတော် နာဒဗ်
သည်ခမည်းတော်အရာ၌နန်းထိုင်၏။
၂၁ ရှောလမုန်သားရောဗောင်သည်ယုဒပြည်ကို
စိုးစံလေ၏။ နန်း ထိုင်သော အခါ အသက် လေး
ဆယ်တနှစ်ရှိ၏။ ထာဝရဘုရားသည်နာမတော်
တည်စေရာဘို့ ဣသရေလ ခရိုင်များတို့အထဲက
ရွေးကောက်သော ယေရုရှလင်မြို့၌ ဆယ်ခုနစ်
နှစ် စိုးစံလေ၏။ မယ်တော်ကား၊ အမ္မုန် အမျိုး
၂၂ သား၊ နေမအမည်ရှိ၏။-ယုဒအမျိုးသားတို့သည်
ထာဝရဘုရား ရှေ့တော်၌ ဒုစရိုက်ကိုပြု၍၊ ဘိုး
ဘေးတို့ပြစ်မှားသမျှထက်ပြစ်မှားသော အပြစ်
များအားဖြင့်၊ အမျက်တော်ကိုနှိုးဆော်ကြ၏။-
၂၃ မြင့်သော တောင် ရှိသမျှ တို့အပေါ်၌၎င်း၊ စိမ်း
သောသစ်ပင်ရှိသမျှတို့အောက်၌၎င်း၊ကုန်းများ၊
၂၄ ရုပ်တုများ၊အာရှရပင်များကိုတည်ကြ၏။-ထို
ပြည်၌ယောကျ်ားအလိုသို့လိုက်တတ်သောမိန်း
လျှာ များရှိ၍၊ ထာဝရ ဘုရားသည် ဣသရေလ
အမျိုးရှေ့မှနှင်ထုတ်တော်မူသောပြည်သားများ
ပြုသော စက်ဆုပ်ရွံ့ရှာဖွယ်ရာအမှု အလုံးစုံတို့
ကိုပြုကြသည်တကား။
၂၅ ရောဗောင်မင်းကြီးနန်းစံငါးနှစ်တွင်၊အဲဂုတ္တု
ရှင်ဘုရင်ရှိရှက်သည် ယေရုရှလင်မြို့သို့ စစ်ချီ
၂၆ ၍-ဗိမာန်တော်ဘဏ္ဍာနှင့်နန်းတော်ဘဏ္ဍာရှိ
သမျှကို သိမ်းသွား၏။ ရှောလမုန် လုပ်သော ရွှေ
၂၇ ဒိုင်းရှိသမျှကိုလည်းယူသွား၏။-ရောဗောင်မင်း
ကြီးသည်ရွှေဒိုင်းအစား၊ကြေးဝါဒိုင်းတို့ကိုလုပ်
၍ နန်း တော် တံခါး စောင့်၊ ကိုယ်ရံ တော်မှူး၌
၂၈ အပ်လေ၏။- ရှင်ဘုရင် သည် ဗိမာန် တော်သို့
သွား သော အခါ၊ ကိုယ် ရံတော် သားတို့ သည်
ဒိုင်းတို့ကိုဆောင်၍၊ နောက်တဖန် မိမိတို့စောင့်
ရာအခန်းမှာပြန်ထားကြ၏။
၂၉ ရောဗောင်ပြုမူသောအမှုအရာ ကြွင်းသမျှတို့
၃၀ သည်ယုဒရာဇဝင်၌ရေးထားလျက်ရှိ၏။- ရော
ဗောင်နှင့်ယေရောဗောင်တို့သည် အသက်ရှည်
၃၁ သမျှ ကာလ ပတ်လုံး ရန်ဘက်ပြုကြ၏။- ရော
ဗောင်သည်လည်း ဘိုးဘေးတို့နှင့် အိပ်ပျော်၍၊
ဒါဝိဒ်မြို့၌ သူတို့နှင့် အတူ သင်းဂြိုဟ်ခြင်းကို ခံ
လေ၏။သားတော်အဘိယသည်ခမည်းတော်အ
ရာ၌နန်းထိုင်၏။

၁၅

၁ နေဗတ်၏သား ယေရောဗောင် မင်းကြီး နန်း
၂ စံ တဆယ့် ရှစ်နှစ်တွင်၊ အဘိယသည် ယေ ရုရှ
ထင်မြို့၌ မင်းပြု၍၊ ယုဒပြည်ကို သုံးနှစ် စိုးစံ၏။
မယ်တော်ကား၊ အဗရှလုံ၏သမီးမာခါအမည်ရှိ
၏။– ခမည်းတော်ပြုသော ဒုစရိုက်ကို ပြုမြဲပြု၍၊
ထေးတော်ဒါဝိဒ်ကဲ့သို့ မိမိဘုရားသခင် ထာဝရ
ဘုရား ရှေ့တော်၌ မိတ် နှစ် လုံး စုံ ထင် သည်မ
၄ ထုတ်။– သို့ သော် ထည်း၊ ဒါဝိဒ်၏ မျက် နှာကို
ထောက် ၍၊ သူ၏ ဘုရား သခင် ထာဝရ ဘုရား
သည်ဆွေတော်မျိုးတော်ကို မြှုးမြောက်၍၊ ယေ
ရုရှလင်မြို့ကိုတည်စေသဖြင့်၊ ထိုမြို့၌ ဒါဝိဒ်၏မီး
၅ ခွက်ကို ထွန်းထင်းစေတော်မူ၏။– အကြောင်းမူ
ကား၊ဒါဝိဒ်သည်ဟိတ္တိအမျိုးဥရိယအမှုကိုထား
လျှင်၊ တသက်လုံးထာဝရဘုရား မှာထားတော်
မူသော အမှုတစုံ တခုကိုမျှ မရှောင်၊ ရှေ့တော်၌
တရားသဖြင့် ကျင့်သော အကြောင်းတည်း။–
၆ ရောဗောင်သား အဘိယနှင့် ယေရောဗောင်တို့
သည်အသက်ရှင်သမျှကာလပတ်လုံးရန်တက်
ပြုကြ၏။
၇ အဘိယ ပြု မူသော အမှု အရာ ကြွင်း သမျှတို့
၈ သည်ယုဒရာဇဝင်၌ ရေးထားလျက်ရှိ၏။–အဘိ
ယသည် ဘိုးဘေး တို့နှင့် အိပ်ပျော်၍ ဒါဝိဒ်မြို့၌
သင်းပြိုဟ် ခြင်းကို ခံလေ၏။ သားတော် အာသ
သည်ခမည်းတော်အရာ၌နန်းထိုင်၏။
၉ ဣသရေလရှင်ဘုရင်ယေရောဗောင်နန်းစံနှစ်
ဆယ်တွင်၊ အာသသည် ယေရုရှလင် မြို့၌ လေး
ဆယ်တနှစ်မင်းပြု၍၊ယုဒပြည်ကိုစိုးစံလေ၏။–
၁၀ အထွားတော်ကား၊ အဗရှလုံ၏ သမီး မာခါ ဖြစ်
၁၁ ၏။– အာသသည် အဘိတော် ဒါဝိဒ် ပြုသ ကဲ့သို့
ထာဝရ ဘုရား ရှေ့တော်၌ တရား သဖြင့် ပြု၏။–
၁၂ ယောက်ျားအလိုသို့လိုက်တတ်သောမိန်းမလျာတို့
ကိုငှင်၊ဘိုးတော်ဘေးတော်လုပ်သောရုပ်တုရှိသ
မျှတို့ကိုငှင်၊ ပြည်တော်ထဲက ပယ်ရှား တော်မူ
၁၃ ၏။–အထွားတော်မာခါသည်အာရှရပင်အဖို့ရုပ်
တုကိုလုပ်သောကြောင့်၊မိဖုရားအရာကိုနှုတ်၍၊
ရုပ်တုကိုဖျက်ဆီးပြီးလျှင်၊ ကေဒြုန်ချောင်းနား
၁၄ မှာမီးရှို့တော်မူ၏။– မြင့်သောအရပ်တို့ကိုမပယ်
ရှားသော်လည်း၊ လက်ထက်တော် ကာလပတ်
လုံး၊အာသမိတ်နှစ်လုံးသည်ထာဝရဘုရားရှေ့
၁၅ တော်၌စုံထင်ခြင်းရှိ၏။– ခမည်းတော် လှူသော
ဥစ္စာ၊ ကိုယ်တိုင်လှူသောဥစ္စာ၊ ရွှေ၊ငွေ၊တန်ဆာ
များကိုဗိမာန်တော်ထဲသို့သွင်းထားတော်မူ၏။
၁၆ အာသ နှင့် ဣသရေလ ရှင်ဘုရင် ဗာရှာ တို့
သည် အသက် ရှည်သ မျှ ကာလ ပတ် လုံး ရန်
၁၇ တက်ပြုကြ၏။– ဣသရေလရှင်ဘုရင်ဗာရှာသည်
ယုဒပြည်သို့စစ်ချီ၍၊ ယုဒရှင်ဘုရင်အာသထံသို့
အဘယ်သူမျှ မထွက်မဝင်စေခြင်းငှါ ရာမမြို့ကို
၁၈ တည်၏။–ထိုအခါကျန်ကြွင်းသောဗိမာန်တော်
ဘဏ္ဍာနှင့် နန်းတော်ဘဏ္ဍာတည်း ဟူသောရွှေ
ငွေရှိသမျှကို အာသ သည်ယူ၍၊ မိမိ ကျွန်တို့၌
အပ် သဖြင့်၊ ဒမာ သက် မြို့မှာ နေ သော ရှုရိ ရှင်
ဘုရင် ရေဇုန်သား တာဗရိမုန်၏သား ဗင်္ဟာဒဒ်
၁၉ ထံသို့ပေးလိုက်၍-ငါသည်သင်နှင့်ငှင်၊ငါ့ခမည်း
တော်သည် သင့်ခမည်းတော်နှင့်ငှင်၊ မိဿဟာ
ယဖွဲ့ခြင်းရှိသည်ဖြစ်၍၊ရွှေငွေကိုငါလက်ဆောင်
ပေးလိုက်၏။ ဣသရေလရှင်ဘုရင် ဗာရှာသည်
ငါ့ထံမှ ထွက်သွား စေ ခြင်း ငှါ၊ သူနှင့် ဖွဲ့ သော
မိဿဟာယကို ဖျက်၍လာပါဟု မှာလိုက်လေ
၂၀ ၏။–အာသမင်းကြီး၏ စကားကို ဗင်္ဟာဒဒ်သည်
နားထောင်၍၊ ဣသရေလ မြို့ရွာတို့ကို စစ်ချီစေ
ခြင်းငှါ၊ မိမိဗိုလ်များကို စေလွှတ်သဖြင့်၊ သူတို့
သည်ဣယုန်မြို့၊ဒန်မြို့၊ အာဗေလဗက်မာခါမြို့မှ
စ၍ ဂနေသရက်ပြည်လုံး၊ နဿလိ ပြည်လုံးကို
၂၁ လုပ်ကြံကြ၏။–ထိုသိတင်းကို ဗာရှာသည်ကြား
သောအခါ၊ ရာမမြို့ကိုထက်စမသတ်ဘဲ တိရဇ
၂၂ မြို့၌နေရ၏။– ထိုအခါအာသမင်းကြီးသည် ယုဒ
ပြည် တရှောက်လုံးတွင်၊ အမိန့်တော်ကို ကျော်
ညာစေသဖြင့်၊ ပြည်သားတယောက်မျှမလွတ်၊
ရှိသမျှ တို့သည်ရာမမြို့၌ ဗာရှာမင်း သွင်းသော
ကျောက်နှင့် သစ်သားကိုယူသွားကြ၍၊ အာသ
မင်းကြီးသည် ဗင်္ယာမိန်ခရိုင်၌ ဂေဗမြို့နှင့် မိဇ
၂၃ ပါမြို့ကိုတည်၏။– အာသ မင်းပြုမူသောအမှုအ
ရာ ကြွင်း သမျှနှင့် တန်ခိုး ကြီး ခြင်း၊ မြို့ရွာကို
တည် ခြင်း အရာတို့သည် ယုဒရာဇဝင်၌ ရေး
ထားလျက်ရှိ၏။ သို့ရာတွင်၊ အသက်ကြီးသော
၂၄ အခါခြေတော်၌အနာရောဂါစွဲသဖြင့်–ဘိုးဘေး
တို့နှင့် အိပ် ပျော် ၍ အဘိတော် ဒါဝိဒ် မြို့၌ သင်း
ပြိုဟ် ခြင်းကို ခံလေ၏။ သား တော် ယောရှဖတ်
သည်ခမည်းတော်အရာ၌နန်းထိုင်၏။
၂၅ ယုဒရှင်ဘုရင် အာသ နန်းစံ နှစ် နှစ်တွင်၊ ယေ
ရောဗောင်သားနာဒဒ်သည် ဣသရေလ နိုင်ငံ၌
၂၆ မင်းပြု၍ နှစ်နှစ်စိုးစံ၏။– ထိုမင်းသည် ထာဝရ
ဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၍၊ ခမည်းတော်

လိုက်သောထမ်း။ ဣသရေလအမျိုးကို ပြစ်မှား
၂၇ စေသောထမ်းသို့ လိုက်လေ၏။- ဣသခါအမျိုး၊
အဟိယထသား ဗာရှာသည် သင်းဖွဲ့၍၊ နာဒဗ်မင်း
နှင့် ဣသရေလ အမျိုးသား၊ အပေါင်း တို့ သည်
ဖိလိတ္တိပြည် ဂိဗေသုန် မြို့ကိုဝိုင်းထား ကြစဉ်-
၂၈ ယုဒရှင် ဘုရင်အာသ နန်းစံသုံးနှစ်တွင်၊ ဗာရှာ
သည် နာဒဗ် မင်းကို လုပ်ကြံ၍ နန်းထိုင်လေ၏။-
၂၉ နန်းထိုင်သောအခါယေရောဗောင်အမျိုး၌သမျှ
ကိုလည်း လုပ်ကြံ၏။ ထာဝရ ဘုရားသည် မိမိ
ကျွန်၊ ရှိလောမြို့သား၊အဟိယအားဖြင့်မိန့်တော်
မူသည့်အတိုင်း၊၊ယေရောဗောင်အမျိုးကိုမဖျက်
မှီတိုင်အောင်၊အသက် ရှုသောသူတယောက်ကို
၃၀ မျှမကျန် မထား။- အကြောင်း မူ ကား၊ ယေရော
ဗောင်သည် ကိုယ်တိုင်ပြစ်မှားသော အပြစ်နှင့်
ဣသရေလအမျိုးကိုလည်း ပြစ်မှားစေသောအ
ပြစ်အားဖြင့်၊ ဣသရေလ အမျိုး၏ ဘုရားသခင်
ထာဝရဘုရား၏အမျက်တော်ကို နှိုးဆော်သော
၃၁ အကြောင်းတည်း။-နာဒဗ်မင်းပြုမူသောအမှုအ
ရာကြွင်းသမျှတို့သည်ဣသရေလရာဇဝင်၌ရေး
၃၂ ထားလျက်ရှိ၏၊-အာသနှင့်ဣသရေလရှင်ဘုရင်
ဗာရှာ တို့သည် အသက် ရှည်သမျှ ကာလပတ်
၃၃ လုံး ရန်အတက် ပြုကြ၏။- ယုဒ ရှင် ဘုရင် အာသ
နန်းစံသုံးနှစ်တွင်၊ အဟိယသား ဗာရှာသည်တိ
ရဇမြို့မှာမင်းပြု၍၊ ဣသရေလနိုင်ငံကိုနှစ်ဆယ်
၃၄ လေးနှစ် စိုးစံ၏။- ထိုမင်းသည် ထာဝရ ဘုရား
ရှေ့တော်၌ဒုစရိုက်ကိုပြု၍၊ယေရောဗောင်လိုက်
သော ထမ်း၊၊ ဣသရေလ အမျိုး ကို ပြစ် မှား စေ
သောထမ်းသို့လိုက်လေ၏။

၁၆

၁ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည် ဗာ
ရှာကိုအကြောင်းပြု၍၊ဟာနန်၏သားယေဟုသို့
၂ ရောက်လာသည်ကား၊- သင့်ကိုမြေမှုန့်ထဲကငါ
ကြွ၍၊ ငါ၏လူ ဣသရေလ အမျိုးကို အုပ်စိုး စေ
ခြင်းငှါ မှူးမြောက်သော်လည်း၊ သင်သည်ယေ
ရောဗောင်၏လမ်းသို့လိုက်လျက်၊ဣသရေလအ
မျိုးသည် ပြစ်မှား၍၊ ငါ့အမျက်ကို နှိုး ဆော်စေ
၃ ခြင်းငှါ ပြုသောကြောင့်- သင်၏ အမျိုး အနွယ်
သားစည် မြေးထက်တို့ကိုငါပယ်ရှား၍၊ သင်၏
အမျိုးကိုနေဗတ်၏သားယေရောဗောင်၏အမျိုး
၄ ကဲ့သို့ငါဖြစ်စေမည်။-ဗာရှာ၏အမျိုးသားသည်
မြို့ထဲမှာ သေလျှင်၊ အသေ ကောင်ကို ခွေးစား
ထိမ့်မည်။မြို့ပြင်မှာသေလျှင်မိုဃ်းကောင်းကင်
၅ ငှက် စားထိမ့်မည်ဟု မိန့်တော်မူ၏။- ဗာရှာပြုမူ
သော အမှုအ ရာ ကြွင်းသမျှတို့ နှင့် ထူး၏ တန်ခိုး
ကြီးခြင်းအရာသည် ဣသရေလ ရာဇဝင်၌ ရေး
၆ ထား လျက်ရှိ၏။- ဗာရှာသည် ဘိုးဘေး တို့ နှင့်
အိပ်ပျော်၍တိရဇမြို့၌ သင်းဂြိုဟ်ခြင်းကိုခံလေ
၏၊ သားတော်ဧလာသည် ခမည်းတော်အရာ၌
၇ နန်းထိုင်၏။- ဗာရှာသည် ယေရောဗောင် အမျိုး
နှင့်တူ၍ ထိုအမျိုးကိုလုပ်ကြံသောအပြစ်၊မိမိပြု
မူသောအားဖြင့်၊ ထာဝရဘုရား၏အမျက်တော်
ကိုနှိုးဆော်၍၊ရှေ့တော်၌ပြစ်မှားသမျှသောအ
ပြစ်ကြောင့်၊ ထာဝရဘုရား၏နှုတ်ကပတ်တော်
သည်ဗာရှာကိုအကြောင်းပြု၍၊ ဟာနန်၏သား
ယေဟု အားဖြင့် ရောက် လာ သည် နှင့် အညီ-
၈ ယုဒရှင်ဘုရင်အာသ နန်းစံနှစ်ဆယ် ခြောက်နှစ်
တွင်၊ ဗာရှာသား ဧလာသည် တိရဇမြို့၌ နေ၍၊
ဣသရေလ နိုင်ငံကို နှစ်နှစ် စိုးစံသည် ရှိသော်-
၉ ရထားစီးသူရဲတဝက်ကိုအုပ်သောသူ၊မိမိကျွန်
ဇိမရိသည်သင်းဖွဲ့၍၊ဧလာသည်တိရဇမြို့တွင်
နန်းတော်အုပ် အာဇ၏ အိမ်၌ သစ်ရူး အောင်
၁၀ သောက် လျက် နေစဉ်အခါ- ဇိမရိသည် ဝင်၍
ယုဒရှင်ဘုရင် အာသ နန်းစံ နှစ်ဆယ် ခုနှစ်နှစ်
တွင်၊ ဧလာကိုသေစေခြင်းငှါလုပ်ကြံ၍ နန်းထိုင်
၁၁ လေ၏။-နန်းထိုင်စကဗာရှာအမျိုးသားအပေါင်း
တို့ကိုသတ်၏၊ ဗာရှာနှင့်ပေါက်ဖော်တော်သော
ယောက်ျား၊ အဆွေ ဖွဲ့သော ယောက်ျား၊ တ
၁၂ ယောက်ကိုမျှမကျန်မထား။-ထာဝရဘုရားသည်
ဗာရှာ ကို အကြောင်း ပြု ၍၊ ပရောဖက် ယေဟု
အားဖြင့်မိန့်တော်မူသောစကားတော်နှင့်အညီ၊
ဇိမရိသည် ဗာရှာ အမျိုး သား၊ အပေါင်း၊ တို့ကို
၁၃ ဖျက်ဆီး၏။-အကြောင်းမူကား၊ဗာရှာနှင့်သား
ဧလာတို့သည်ကိုယ်တိုင်ပြစ်မှားသောအပြစ်နှင့်
ဣသရေလ အမျိုး ကို လည်း၊ ပြစ်မှားစေသော
အပြစ်အားဖြင့်၎င်း၊ မိစ္ဆာဒိဋ္ဌိအားဖြင့်၎င်း၊ ဣသ
ရေလ အမျိုး၏ဘုရားသခင် ထာဝရဘုရား၏ အ
မျက်တော်ကိုနှိုးဆော်သောအကြောင်းတည်း။-
၁၄ ဧလာ ပြုမူသော အမှုအရာ ကြွင်းသမျှ တို့သည်
ဣသရေလရာဇဝင်၌ရေးထားလျက်ရှိ၏။
၁၅ ယုဒရှင်ဘုရင်အာသနန်းစံ နှစ်ဆယ် ခုနှစ်နှစ်
၁၆ တွင်ဇိမရိသည်တိရဇမြို့၌ခုနှစ်ရက်စိုးစံ၏။-ထို
သို့ဇိမရိသည်သင်းဖွဲ့၍ရှင်ဘုရင်ကိုအသတ်သည်
ဟု၊ ဖိလိတ္တိပြည်ဂိဗေသုန်မြို့ရှေ့မှာ တပ်ချသော
သူအပေါင်းတို့သည် သိတင်းကြားလျှင်၊ ထိုနေ့

ရှုံးတွင် မိုသိမ္ဗျစ်စင်း၊ ဩမရိကို ဣသရေလရှင်
၁၇ ဘုရင်အရာ၌တပ်ထဲမှာ ချီးမြှောက်ကြ၏။-ဩမ
ရိသည် ဣသရေလအမျိုးသား အပေါင်းတို့နှင့်
တကွ ဂိဗေသုန်မြို့မှ ထွက်၍၊ တိရဇမြို့ကို ဝိုင်း
၁၈ ထားကြ၏။- မြို့ကိုတိုက်၍ရမည်ဟု ဇိမရိသည်
သိသောအခါ၊ နန်းတော်ထဲသို့ဝင်၍၊ မိမိအပေါ်
မှာ နန်းတော်ကိုမီးရှို့သဖြင့် ကိုယ်တိုင်သေလေ
၁၉ ၏။- အကြောင်းမူကား၊ ယေရောဗောင်လိုက်
သော ထမ်း၊ ဣသရေလ အမျိုးကို ပြစ်မှားစေ
သောလမ်းသို့လိုက်၍၊ ထာဝရ ဘုရားရှေ့တော်
၂၀ ၌ ဒုစရိုက်ကိုပြုသောအကြောင်းတည်း။- ဇိမရိ
ပြုမူသော အမှုအရာ ကြွင်းသမျှ တို့နှင့်၊ ပုန်ကန်
ခြင်းအရာသည် ဣသရေလရာဇဝင်၌ရေးထား
လျက်ရှိ၏။
• ထိုအခါပြည်သားတို့သည်ကွဲပြား၍၊ အချို့
တို့သည် ဂိနတ်၏သားတိဗနိကို ရှင်ဘုရင်အရာ
၌ ချီးမြှောက်ခြင်းငှါ၊ သူနောက်သို့လိုက်ကြ၏၊
အချို့ တို့သည် ဩမရိ နောက်သို့ လိုက်ကြ၏။-
၂၂ ဩမရိနောက်သို့လိုက်သောသူတို့သည် ဂိနတ်
၏သားတိဗနိနောက်သို့လိုက်သောသူတို့ကို နိုင်
သဖြင့်၊ တိဗနိသေ၍ဩမရိသည် နန်းထိုင်လေ
၂၃ ၏။- ယုဒရှင်ဘုရင်အာသ နန်းစံသုံးဆယ်တနှစ်
တွင်၊ဩမရိသည်နန်းထိုင်၍ဣသရေလနိုင်ငံကို
တဆယ် နှစ်နှစ်မိုးစံ၏၊ တိရဇမြို့၌ ခြောက်နှစ်
၂၄ မိုးစံပြီးမှ- ရှမာရိတောင်ကိုတောင်ရှင်ရှမေရ၌
ငွေအခွက်နှစ်ဆယ်နှင့်ဝယ်၍၊ တောင်ပေါ်မှာ
မြို့ကိုတည်၏၊ ထိုမြို့ကိုတောင်ရှင်ရှမေရအမည်
ကိုအစွဲပြုသဖြင့်၊ရှမာရိမြို့ဟူ၍ သမုတ်လေ၏။-
၂၅ ဩမရိသည် ထာဝရဘုရားရှေ့တော်၌ ဒုစရိုက်
ကိုပြုသဖြင့်၊မိမိရှေ့မှာဖြစ်ဘူးသောသူအပေါင်း
၂၆ ထက် သာ၍ ဆိုးညစ်၏။- နေဗတ်၏သား ယေ
ရောဗောင် လိုက်သောထမ်း၊ ဣသရေလအမျိုး
သည်မိစ္ဆာဒိဋ္ဌိအားဖြင့်မိမိတို့ဘုရားသခင်ထာ
ဝရ ဘုရား၏ အမျက်တော်ကို နှိုးဆော်၍၊ ပြစ်
မှားစေသော ဒုစရိုက် အပြစ်လမ်းသို့ လိုက်လေ
၂၇ ၏။- ဩမရိပြုမူသော အမှုအရာ ကြွင်းသမျှတို့
နှင့်၊ တန်ခိုးကြီးခြင်းအရာသည် ဣသရေလရာ
၂၈ ဇဝင်၌ရေးထားလျက်ရှိ၏။- ဩမရိသည် ဘိုး
တေးတို့နှင့် အိပ်ပျော်၍၊ ရှမာရိမြို့၌သင်းဂြိုဟ်
ခြင်းကို ခံလေ ၏၊ သား တော် အာဟပ် သည်
ခမည်းတော်အရာ၌နန်းထိုင်၏။
၂၉ ထိုနှစ်ဘုရင်အာသ နန်းစံ သုံးဆယ့်ရှစ်နှစ်
တွင်၊ ဩမရိသား အာဟပ်သည် ရှမာရိမြို့၌ ဣ
သရေလမင်းပြု၍၊ ဣသရေလနိုင်ငံကိုနှစ်ဆယ်
၃၀ နှစ်နှစ်မိုးစံ၏။- ဩမရိသားအာဟပ်သည် မိမိ
ရှေ့မှာဖြစ်ဘူးသော သူအပေါင်းတို့ထက်ထာဝ
၃၁ ရဘုရားရှေ့တော်၌သာ၍ ဒုစရိုက်ကိုပြု၏။- နေ
ဗတ်၏သား ယေရောဗောင် ပြုသော ဒုစရိုက် အ
ပြစ်လမ်း သို့သာ လိုက်လျှင်၊ သာမည အပြစ်
ရောက်မည်ဟု ထင်မှတ်လျက်၊ ဇိဒုန်မင်းကြီး
ဧသဗာလ၏သမီး ယေဇဗေလနှင့်စုံဖက်၍၊ဗာလ
၃၂ ဘုရားကိုဝတ်ပြုကိုးကွယ်၏။- ရှမာရိမြို့တွင်ဗာ
လဘုရား၏ ဗိမာန်၌ ဗာလ ဘုရား၊ အဖို့ ယဇ်
၃၃ ပလ္လင်ကိုတည်၏။-အာရှရပင်ကိုလည်းပြုစု၍၊
မိမိရှေ့မှာ ဖြစ်ဘူးသော ဣသရေလရှင်ဘုရင်အ
ပေါင်းတို့ထက် ဣသရေလအမျိုး၏ဘုရားသခင်
ထာဝရဘုရား၏ အမျက်တော်ကို နှိုးဆော်ခြင်း
၃၄ ငှါသာ၍ပြု၏။- အာဟပ်လက်ထက်၌ဗေသလ
မြို့သား ဟိလေသည် ယေရိခေါမြို့ကိုတည်၏၊
ထာဝရ ဘုရားသည် နုန်၏သား ယောရှု အား
ဖြင့် မိန့်တော်မူသော စကားနှင့်အညီ၊ သားဦး
အဘိရံ လက်ထက်၌ မြို့မြို အမြစ်ကို တည်၍၊
သားထွေး စေဂုပ် လက်ထက် ၌ မြို့တံခါးတို့ကို
တင်၏။

၁၇

• ဂိလဒ်ပြည် တိရှဘိမြို့သား ဧလိယက၊ ငါကိုး
ကွယ်သောဣသရေလအမျိုး၏ဘုရားသခင်ထာ
ဝရဘုရား အသက်ရှင်တော်မူသည်အတိုင်း၊ ငါ
အခွင့် မရှိဘဲ အင်တန် ကာလပတ်လုံး၊ မိုဃ်းမ
ရွာ၊ နှင်းမကျရဟု အာဟပ် မင်းအား မြွက်ဆို
၂ ၏။- ထာဝရ ဘုရား၏ နှုတ် ကပတ် တော်သည်
၃ ဧလိယသို့ ရောက်လာ သည်ကား၊- သင်သည်
ဤအရပ်မှထွက်သွားလော့၊ အရှေ့သို့ပြောင်း၍
ယော်ဒန်မြစ်တဖက်၊ ခေရိတ်ချောင်းနားမှာပုန်း
၄ ရှောင်၍နေလော့၊- ထိုချောင်းရေကိုသောက်ရ
မည်၊ ကျီးအတို့သည်သင့်ကို ကျွေးမွေးမည်အ
ကြောင်း၊ ငါမှာထားပြီဟု မိန့်တော်မူသည် အ
၅ တိုင်း၊- ဧလိယ သည် သွား၍ ယော်ဒန် မြစ်တ
၆ ဖက်၊ ခေရိတ်ချောင်းနားမှာနေလေ၏။- ကျီးအ
တို့သည်နေ့တိုင်းနံနက်တခါ၊ ညဦးတခါမုန့်နှင့်
အမဲသားကိုဆောင်ခဲ့ကြ၏၊ချောင်းရေကိုလည်း
၇ သောက်ရ၏။- နောက်တဖန် မိုဃ်းမရွာသော
• ကြောင့်၊ချောင်းရေခန်းခြောက်လေ၏။-ထိုအခါ
ထာဝရဘုရား၏နှုတ်ကပတ်တော်သည်ရောက်

၉ လာသည်ကား၊- ထ၍ ဇိဒုန် ပြည်၊
ဇရတ္တမြို့သို့ သွား၍ နေလော့၊ ထိုမြို့၌ နေသော
မုတ်ဆိုးမတယောက်သည် သင့်ကိုကျွေးမွေးမည်
အကြောင်း၊ ငါမှာထားပြီဟု မိန့်တော် မူသည်
၁၀ အတိုင်း၊- ဧလိယသည်ထ၍ ဇရတ္တမြို့သို့သွား
၏၊ မြို့တံခါးသို့ရောက်သောအခါ၊ မုတ်ဆိုးမသည်
ထင်းခွေလျက်ရှိ၏၊ ဧလိယက၊ ငါသောက်စရာ
ရေအနည်းငယ်ကို ခွက်နှင့်ယူခဲ့ပါလော့ဟုဆင့်
၁၁ ၍ဆို၏၊- မိန်းမသည်ရေကို ယူခြင်းငှါ သွားစဉ်
တွင်၊ တဖန်တစ်၍ မုန့်တခဲကိုလည်း သင့်လက်၌
၁၂ ယူခဲ့ပါလော့ဟု ဆိုပြန်လျှင်- မိန်းမက၊ သင်၏ဘုရား
သခင် ထာဝရဘုရား အသက်ရှင်တော်မူသည်
အတိုင်း၊ မုန့်ပြားတပြားမျှမရှိ၊ အိုးထဲမှာ မုန့်
ညက် တဆုပ်၊ ဘူး၌ ဆီအနည်းငယ်သာ
ရှိ၏၊ ကျွန်မ နှင့် သား ငယ် အမှီစုတ်၍၊ စား ထို
သောငှါ၎င်း၊ စားပြီးမှသေလိုသောငှါ၎င်း၊ ထင်း
၁၃ စုခဲ့ရကို ယခုခွေပါ၏ဟု ပြန်ပြော၏၊- ဧလိယ
ကလည်း မစိုးရိမ်နှင့်၊ သင် ဆိုသည် အတိုင်း
သွား၍ပြုလော့၊ သို့ရာတွင်၊ ငါ့အမှီမုန့်ပြားငယ်
တပြားကိုအရင်လုပ်၍ယူခဲ့လော့၊ နောက်မှသင်
၁၄ နှင့်သင်၏သားငယ်အမှီလုပ်လော့၊- ဣသရေ
လအမျိုး၏ဘုရားသခင် ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ထာဝရဘုရားသည် မြေပေါ်မှာ
မိုဃ်းရွာစေတော် မမူမှီတိုင်အောင်၊ အိုး၌ရှိ
သောမုန့်ညက်မကုန်၊ ဘူး၌ရှိသောဆီမလျော့ရ
၁၅ ဟုမိန့်တော်မူကြောင်းကိုဆင့်ဆို၏၊- ထိုမုတ်ဆိုးမ
သည် သွား၍၊ ဧလိယစကားအတိုင်းပြုသဖြင့်၊
ဧလိယနှင့်တကွ ကိုယ်တိုင်မှစ၍၊ အိမ်သားတို့
သည် အင်တန် ကာလ ပတ်လုံး စားရကြ၏၊-
၁၆ ထာဝရဘုရားသည်ဧလိယအားဖြင့်မိန့်တော်မူ
သောစကားအတိုင်း၊ အိုး၌ရှိသော မုန့်ညက်မ
ကုန်၊ ဘူး၌ရှိသောဆီမလျော့၊
၁၇ ထိုနောက်မှအိမ်ရှင်မ၏သားသည် ပြင်းပြစွာ
သောအနာရောဂါစွဲသောကြောင့် အသက်ချုပ်
၁၈ ၏၊- မိန်းမကလည်း၊ အိုဘုရားသခင်၏လူ၊ ကိုယ်
တော်သည် ကျွန်မနှင့်အဘယ်သို့ဆိုင်သနည်း၊
ကျွန်မအပြစ်တို့ကိုအောက်မေ့စေ၍၊ ကျွန်မသား
ကိုသတ်ဖို့သောငှါ၊ ကျွန်မဆီသို့ကြွလာတော်မူ
၁၉ သလောဟု ဧလိယအားဆိုသော်၊- သင်၏သား
ကို ငါ့အားပေးလော့ဟု ဆိုလျက်၊ မိန်းမရင်ခွင်ထဲ
ကယူ၍၊ မိမိ နေရာ အထက် အခန်းသို့ ဆောင်
သွားသဖြင့်၊ မိမိအိပ်ရာပေါ်မှာ ထားပြီးလျှင်-

၂၀ အကျွန်ုပ်၏ဘုရားသခင်ထာဝရဘုရား၊ အကျွန်ုပ်
တည်းခိုသော ဤမုတ်ဆိုးမ၌ဘေးဥပါဒ်ပြု၍၊ သူ
၏သားကိုသေစေတော်မူမည်လောဟု၊ ထာဝရ
၂၁ ဘုရားကို ကျွေးကြော် လေ၏၊- တဖန် သူငယ်
အပေါ်မှာ မိမိကိုယ်ကို သုံးကြိမ်ဖြန့်လျက်၊ အ
ကျွန်ုပ်၏ဘုရားသခင် ထာဝရဘုရား၊ ဤသူငယ်
၏ဝိညာဉ်ကိုတဖန်ဝင်စေတော်မူပါဟု၊ ထာဝရ
၂၂ ဘုရားကို ကျွေးကြော်ပြန်၏၊- ဧလိယစကားကို
ထာဝရဘုရားကြားတော်မူ၍၊ သူငယ်၏ဝိညာဉ်
သည်ဝင်သဖြင့်၊ သူသည် အသက် ရှင်ပြန်၏၊-
၂၃ ဧလိယသည်သူငယ်ကိုအထက်အခန်းမှအောက်
သို့ယူသွား၍၊ ကြည့်လော့၊ သင်၏သားအသက်
၂၄ ရှင်ပြီဟု ဆိုလျက် အမိ၌ အပ် လေ၏၊- မိန်းမ က
လည်း၊ ဤအမှုကိုထောက်၍၊ ကိုယ်တော်သည်
ဘုရား သခင် ၏ လူ ဖြစ် ကြောင်းကို၎င်း၊ ကိုယ်
တော်ဆင့်ဆိုသောထာဝရဘုရား၏စကားတော်
ထုတ်မှန် ကြောင်းကို၎င်း၊ ကျွန်မသိပါသည်ဟု
ဧလိယအားဆို၏၊

၁၈

၁ ကာလအင်တန်ကြာ၍ သုံးနှစ်မြောက်သောအခါ၊
ဧလိယသို့ ရောက် လာ သော ထာဝရ ဘုရား၏
နှုတ်ကပတ်တော်က၊ သင်သည် အာဟပ် မင်း
အားသွား၍ကိုယ်ကိုပြလော့၊ ငါသည်လည်း
မြေပေါ်မှာမိုဃ်းရွာစေမည်ဟု မိန့်တော်မူသည်
၂ အတိုင်း၊- ဧလိယသည်အာဟပ်မင်းအားကိုယ်
ကိုပြဖို့သောငှါသွား၏၊ ထိုအခါ ရှမာရိမြို့၌ပြင်း
စွာသော အစာ အာဟာရ ခေါင်းပါးခြင်းဘေး
၃ ရှိ၍- အာဟပ်မင်းသည် နန်းတော်အုပ် ဩဗဒိ
ကိုခေါ်၏၊ ထိုဩဗဒိသည် ထာဝရဘုရားကိုအ
၄ လွန်ရိုသေသောသူဖြစ်၏၊- ယေဇဗေလ သည်
ထာဝရဘုရား၏ပရောဖက်တို့ကိုပယ်ဖြတ်သော
အခါ၊ ဩဗဒိသည်ပရောဖက်တရာကိုမြေတွင်း
ထဲမှာ ငါးဆယ်စီဝှက်ထားပြီးလျှင်၊ မုန့်နှင့်ရေ
၅ ကိုပေး၍ကျွေးလေ၏၊- အာဟပ်ကလည်း၊ ထ
ပြည်တလုံးသို့ လှည့်လည်၍ စမ်းရေ တွင်းများ၊
ချောင်း များ ရှိရာ အရပ်ရပ် သို့ သွားလော့၊ တိ
ရိစ္ဆာန်အပေါင်းတို့သည်မသေ၊ မြင်းနှင့်လား
တို့ သည် အသက် လွတ်မည်အကြောင်း၊ မြက်
ပင်ကိုတွေ့ကောင်းတွေ့လိမ့်မည်ဟုဩဗဒိအား
၆ ဆိုလျက်- သူတို့ သည် တပြည် လုံးကို ခွဲခြား
ဆောင်ဝေဝေ၍၊ အာဟပ်နှင့်ဩဗဒိသည်တစီး
၇ တခြားစီ ထွက်သွားကြ၏၊- ဩဗဒိသည်သွား

ရှောက်စဉ်၊ ဧလိယသည် ဆီး၍ တွေ့၏၊ ဩဗဒိ
သည် ဧလိယကိုသိ၍ ပြပ်ဝပ်လျက်၊ ကိုယ်တော်
သည် အကျွန်ုပ်သခင် ဧလိယမှန်ပါသလောဟု
၈ မေးလျှင်- ဧလိယက ငါမှန်၏၊ ဧလိယသည် ဤ
မည်သော အရပ်၌ရှိပါ၏ဟု၊ သင့်သခင် ထံသို့
၉ သွား၍ လျှောက်လော့ဟု ပြောဆိုသော်- ဩဗဒိ
ကလည်း၊ ကိုယ်တော်ကျွန်၏ အသက်ကိုသတ်စေ
ခြင်းငှါ အာဟပ်၌ အပ်ရမည်အကြောင်း၊ ကိုယ်
တော်ကျွန်သည် အဘယ်သို့ပြစ်မှားမိသနည်း။
၁၀ ကိုယ်တော်၏ ဘုရားသခင် ထာဝရဘုရား အ
သက် ရှင်တော်မူသည် အတိုင်း၊ ကိုယ်တော်ကို
ရှာစေခြင်းငှါ၊ အကျွန်ုပ်သခင် မစေလွှတ်သော
တိုင်းနိုင်ငံ တစုံမျှမရှိပါ။ ထိုကျွန်း တနိုင်ငံသား
တို့၊ ဧလိယမရှိပါဟု လျှောက်သောအခါ၊ ကိုယ်
တော်ကိုရှာ၍ မတွေ့နိုင်ဟု ထိုတိုင်းနိုင်ငံသားတို့
၁၁ သည် အကျိန်ကိုခံရကြပါ၏။- ယခုမူကား၊ ဧလိ
ယသည် ဤမည်သော အရပ်၌ရှိပါ၏ဟု၊ သင့်သ
ခင်ထံသို့ သွား၍ လျှောက်လော့ဟု မိန့်တော်မူ
၁၂ ပါသည် တကား။- အကျွန်ုပ်သည် ကိုယ်တော်
ထံမှ ထွက်သွား၍၊ အာဟပ်မင်း ထံမှာလျှောက်
စဉ်တွင်၊ ထာဝရဘုရား၏ ဝိညာဉ်တော်သည်
အကျွန်ုပ် မသိသော အရပ်သို့ ကိုယ်တော်ကို
ဆောင်သွားတော်မူလျှင်၊ အာဟပ်မင်းသည်
ကိုယ်တော်ကို မတွေ့နိုင်သောအခါ အကျွန်ုပ်ကို
သတ်ပါလိမ့်မည်။ ကိုယ်တော်ကျွန်မူကား၊ အ
သက်ငယ်စဉ်ကာလမှစ၍၊ ထာဝရဘုရားကို
၁၃ ရိုသေပါပြီ။- ယေဇဗေလသည် ထာဝရဘုရား
၏ ပရောဖက်တို့ကို သတ်သောအခါ၊ အကျွန်ုပ်
ပြုသောအမှုတည်းဟူသော၊ ထာဝရဘုရား၏
ပရောဖက် တရာကို ခွဲထွင်း၊ ထဲမှာ ငါးဆယ်စီ
ဝှက်ထား ပြီးလျှင်၊ မုန့်နှင့် ရေကိုပေး၍ ကျွေး
မွေးကြောင်းကို၊ အကျွန်ုပ်သခင် ကြားတော်မမူသ
၁၄ လော။- ယခုမူကား၊ ဧလိယသည် ဤမည်သောအ
ရပ်၌ရှိပါ၏ဟု၊ သင့်သခင်ထံသို့ သွား၍လျှောက်
လော့ဟု၊ ကိုယ်တော် မိန့်တော်မူသည် ဖြစ်၍၊
အာဟပ်သည် အကျွန်ုပ်ကို သတ်ပါလိမ့်မည်ဟု
၁၅ ပြန်ဆို၏။- ဧလိယကလည်း၊ ငါကိုးကွယ်သော
ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား အ
သက်ရှင်တော်မူသည်အတိုင်း၊ ငါသည် ယနေ့
အာဟပ်မင်းအား ကိုယ်ကိုအမှန်ပြမည်ဟု ဆို၏
၁၆ ပြိန်ခဲ့သော်- ဩဗဒိသည် အာဟပ်မင်း ထံသို့
သွား၍ လျှောက်လေ၏၊ အာဟပ်သည် ဧလိယ
၁၇ ကို ကြိုဆိုခြင်းငှါ သွား၍- တွေ့မြင်သောအ
ခါ၊ သင်သည် ဣသရေလ အမျိုးကို နှောင့်ရှက်
၁၈ သောသူမှန်သလောဟု မေးလျှင်- ဧလိယက၊ ငါ
သည် ဣသရေလ အမျိုးကို မနှောင့်ရှက်၊ သင်
နှင့် သင့်အဆွေအမျိုးတို့သည် ထာဝရဘုရား၏
ပညတ် တရားကို စွန့်၍၊ ဗာလ ဘုရားတို့ကို
ဆည်းကပ်သဖြင့်၊ ဣသရေလအမျိုးကို နှောင့်
၁၉ ရှက်ကြပြီ။- ထိုရာတွင်၊ လူကိုစေလွှတ်၍၊
ဣသရေလအမျိုးသားအပေါင်းတို့ကိုငှင်း၊ ဗာလ
ပရောဖက် လေးရာငါးဆယ်ကိုငှင်း၊ ယေဇဗေ
လစားပွဲ၌စားသော အာရှရပရောဖက် လေးရာ
ကိုငှင်း ကရမေလတောင်၊ ငါ့ထံသို့ စုဝေးစေလော့
၂၀ ဟုဆိုသည်အတိုင်း- အာဟပ်သည် ဣသရေလ
အမျိုးသား အပေါင်းတို့ရှိရာသို့ လူကိုစေလွှတ်
၍၊ ပရောဖက်တို့ကို ကရမေလ တောင်ပေါ်မှာ
စုဝေးစေ၏။
၂၁ ဧလိယသည် လူများရှိရာသို့လာ၍၊ သင်တို့
သည် ထသော နှစ်ပါး စပ်ကြားမှာ၊ အဘယ်မျှ
ကာလပတ်လုံး ထုံမှားသော စိတ်နှင့်နေကြလိမ့်
မည်နည်း။ ထာဝရဘုရားသည် ဘုရားသခင်မှန်
လျှင်၊ ထိုဘုရားကို ဆည်းကပ်ကြလော့။ ဗာလ
သည်ဘုရားသခင်မှန်လျှင်၊ ထိုဘုရားကို ဆည်း
ကပ်ကြလော့ဟု ဆိုလျှင်၊ လူများတို့သည်တိတ်
၂၂ ဆိတ်စွာ နေကြ၏။- တဖန် ဧလိယက၊ ထာဝရ
ဘုရား၏ ပရောဖက်ကား၊ ငါတယောက်တည်း
ကျန်ရစ်၏။ ဗာလ၏ ပရောဖက်ကား၊ လေးရာ
၂၃ ငါးဆယ် ရှိကြ၏။- နွားနှစ်ကောင်ကို ပေးကြ
လော့။ သူတို့သည် တကောင်ကို ရွေး၍ အပိုင်း
ပိုင်းဖြတ်ပြီးလျှင်၊ ထင်းပေါ်မှာ တင်ပါလေစေ။
မီးမထည့်စေနှင့်။ ငါလည်း နွားတကောင် ကို
ထုပ်၍ ထင်းပေါ်မှာ တင်မည်။ မီးကိုမထည့်။-
၂၄ သင် တို့သည် သင်တို့ ဘုရားများ၏ နာမကိုယစ်
ခေါ်ကြလော့။ ငါလည်း ထာဝရ ဘုရား၏ နာမ
တော်ကိုယစ်ခေါ်မည်။ မီးဖြင့်ထူးတော်မူသော
ဘုရားသည် ဘုရားသခင် မှန်ပါစေဟု၊ လူများ
တို့အားပြောဆိုလျှင်၊ လူအပေါင်းတို့က၊ ကောင်း
၏၊ ကောင်းသည် လျှောက်ပတ်ပေသည်ဟု ဆိုကြ
၂၅ ၏။- တဖန်ဧလိယက၊ သင်တို့သည် များသော
ကြောင့် နွားတကောင်ကို အရင်ရွေး၍ ထုပ်ကြ
လော့။ မီးမထည့်ဘဲ သင်တို့ဘုရားများ၏ နာမကို
ယစ်ခေါ်ကြလော့ဟု၊ ဗာလ၏ ပရောဖက် တို့
၂၆ အားဆိုသည်အတိုင်း- သူတို့သည် လူများပေး

ပေးသောနွားကိုယူ၍ထုတ်ပြီးလျှင်၊ အိုဗာလဘုရား
အကျွန်ုပ်တို့အား ထူးတော်မူပါဟု၊ နံနက်အချိန်
မှစ၍ မွန်းတည့် အချိန် တိုင်အောင်၊ ဗာလ၏နာ
မကိုတစ်ခေါ်ကြ၏။ သို့ရာတွင်၊ ဗျာဒိတ်သံမရှိ၊
ထူးသောသူလည်းမရှိ၊ သူတို့သည် ကိုယ်တည်
၂၇ သောယဇ်ပလ္လင်ရှေ့မှာကခုန်ကြ၏။- မွန်းတည့်
အချိန်၌ ဧလိယက၊ ကျယ်သောအသံနှင့် ဟစ်
ကြလော့၊ ဗာလသည်ဘုရားဖြစ်တော်မူ၏၊ ဆင်
ခြင်လျက်နေတော်မူ၏၊ သို့မဟုတ်၊ တစုံတခုကို
လိုက်၍ရှာတော်မူ၏၊ သို့မဟုတ်၊ ခရီးသွားတော်
မူ၏၊ သို့မဟုတ်၊ ကျိန်းစက်တော်မူသောကြောင့်၊
တစုံတယောက်သောသူသည် နှိုးရမည်ဟု ပြက်
၂၈ ရယ်ပြု၍ဆို၏။- သူတို့သည်ထည်း၊ ကျယ်သော
အသံနှင့် ဟစ်၍ ထုံးစံရှိသည် အတိုင်း၊ ကိုယ်
အသွေးနှင့်ကိုယ်ကိုလူးခြင်းငှါ ဓား၊ သံမှုးနှင့်
၂၉ ကိုယ်ကို ရှစေကြ၏။- မွန်းလွဲ၍ ညဦးယံ ယဇ်
ပူဇော်ချိန် တိုင်အောင်၊ ပရောဖက် ပြုကြသော်
လည်း၊ ဗျာဒိတ်သံ မရှိ၊ ထူးသောသူ၊ အမှုထား
၃၀ သောသူလည်း မရှိသောအခါ- ဧလိယက၊ ငါ့အ
နီးသို့လာကြလော့ဟု လူများတို့ကိုခေါ်သည်အ
တိုင်း၊ လူအပေါင်းတို့သည် အနီးသို့လာကြ၏။
ထိုအခါ ဧလိယသည်ပြိုပျက်သောထာဝရဘုရား
၃၁ ၏ယဇ်ပလ္လင်ကိုရှင်းလင်းပြီးမှ- သင်၏အမည်
ကား ဣသရေလ ဖြစ်ရမည် ဟူ သော ထာဝရ
ဘုရား၏ဗျာဒိတ်တော်ကိုခံရသောယာကုပ်သား၊
အမျိုး၊ အနွယ်အရေအတွက်အတိုင်း၊ ကျောက်
၃၂ တဆယ်နှစ်လုံးကိုယူ၍- ထာဝရဘုရား၏နာမ
တော်အမှီ ယဇ်ပလ္လင်ကိုတည်ပြီးမှ၊ မျိုးစေ့နှစ်
တင်း ဆောက်ဝင်နိုင်သော ကျုံးကို ယဇ်ပလ္လင်
၃၃ ပတ်လည်၌ တူးလေ၏။- ထင်းကိုစီ၍၊ နွားကို
လည်း အပိုင်းပိုင်း ဖြတ်ပြီးလျှင်၊ ထင်းပေါ်မှာ
တင်လေ၏။- အိုး လေးလုံး ကို ရေ နှင့် အပြည့်
ထည့်၍၊ မီးရှို့ရာယဇ်နှင့်ထင်းပေါ်မှာလောင်း
၃၄ ကြ လော့ဟု ဆို သည် အ တိုင်း၊- သူ တို့ သည်
လောင်းပြီးမှ၊ တဖန်လောင်းကြဦးလော့ဟု ဆို
သည် အတိုင်း၊ သူတို့သည် လောင်းပြီးမှ၊ သုံး
ကြိမ်တိုင်အောင် လောင်းကြလော့ဟု ဆိုသည်
အတိုင်း၊ သူတို့ သည် သုံး ကြိမ် တိုင် အောင်
၃၅ လောင်းကြ၏။- ရေသည်ယဇ်ပလ္လင်ပတ်ထည်
၃၆ ၌စီး၍ ကျုံးသည်လည်း ရေနှင့်ပြည့်လေ၏။- ည
ဦးယံယဇ်ပူဇော်ချိန် ရောက်သောအခါ၊ ပရော
ဖက် ဧလိယသည် ချဉ်းကပ်၍ အာဗြဟံ၊ ဣ
ဇာက်၊ ဣသရေလတို့၏ ဘုရား ဖြစ်သော ထာဝရ
ဘုရား၊ ကိုယ်တော်သည် ဣသရေလ အမျိုး၏
ဘုရား သခင် ဖြစ်တော် မူကြောင်း၊ ကို၎င်း၊ အ
ကျွန်ုပ်သည်ကိုယ်တော်ကျွန်ဖြစ်၍ အမိန့်တော်
အတိုင်း၊ ဤအမှုအလုံးစုံတို့ကိုပြုကြောင်းကို၎င်း
၃၇ ယနေ့ သိကြပါ စေသော။- အို ထာဝရ ဘုရား
ကိုယ် တော်သည် ထာဝရ အရှင် ဘုရား သခင်
ဖြစ်တော်မူကြောင်းကို၎င်း၊ ဤလူတို့စိတ်သဘော
ကို ပြောင်းလဲစေတော် မူကြောင်းကို၎င်း၊ လူတို့
သည် သိစေခြင်းငှါ၊ အကျွန်ုပ် စကား ကို နား
ထောင် တော်မူပါ၊ နားထောင် တော် မူပါဟု ဆု
၃၈ တောင်း လေ၏။- ထိုအခါ ထာဝရ ဘုရား ၏ မီး
သည်ကျသဖြင့်၊ မီးရှို့ရာယဇ်အစရှိသောထင်း၊
ကျောက်၊ မြေမှုန့်ကိုလောင်၍၊ ကျုံး၌ရှိသောရေ
၃၉ ကို ထည်း ခန်း ခြောက် စေ၏။- လူ အပေါင်း တို့
သည်မြင်လျှင် ပြပ်ဝပ်၍၊ ထာဝရဘုရားသည်
ဘုရားသခင်ဖြစ်တော်မူ၏၊ ထာဝရဘုရားသည်
၄၀ ဘုရားသခင် ဖြစ်တော်မူ၏ဟု ဝန်ခံကြ၏။- ဧလိ
ယကလည်း၊ ဗာလ၏ ပရောဖက်တို့ကိုဖမ်းဆီး
ကြလော့၊ တယောက်ကိုမျှ မလွတ်စေနှင့်ဟု မိ
န့်သည် အတိုင်း၊ သူတို့ကိုဖမ်းဆီး၍၊ ဧလိယ
သည်ကိရှုန်ချောင်းသို့ထုတ်သွားပြီးလျှင်ကွပ်မျက်
လေ၏။

၄၁ ထိုနောက်မှ ဧလိယ က၊ မင်းကြီးသည် စား
သောက်ခြင်းငှါ တက်သွား ပါလော့၊ များစွာ
သော မိုဃ်းရွာမည် အသံ ရှိသည်ဟု အာဟပ်
၄၂ အားပြောဆိုလျှင်- အာဟပ်သည်စားသောက်
ခြင်းငှါ တက်သွား၏၊ ဧလိယသည် ကရမေလ
တောင်ပေါ်သို့တက်၍၊ မြေ၌ပြပ်ဝပ်လျက် မျက်
၄၃ နှာကိုဒူးကြားမှာထားလျက်- ငါ့ကျွန် အားသင်
တက်၍၊ ပင်လယ်သို့ ကြည့်ရှုလော့ဟု ဆိုသည်
အတိုင်း၊ ကျွန်သည် တက်၍ ကြည့်ရှုလျှင်၊ အ
ထယ်အရာမျှ မရှိပါဟု ပြောဆို၏။ ဧလိယက၊ ခု
နစ်ကြိမ်တိုင်အောင်သွား၍ ကြည့်ရှုဦးလော့ဟု
၄၄ ဆို၏။- ခုနစ်ကြိမ်မြောက်သောအခါ၊ လူလက်
နှင့်တူသောမိုဃ်းတိမ်ငယ်တခုသည်ပင်လယ်
ထဲက တက်ပါ၏ဟု ဆိုသော်၊ အာဟပ်မင်းထံ
သို့သွားလော့၊ မိုဃ်းရွာ၍ ဆီးတားမည်ကို မမှီ
မိမိစရာရှိသောကြောင့်၊ မင်းကြီးရှင်ဆင်၍ ပြန်
သွားမည် အကြောင်း၊ လျှောက်ထားလော့ဟု
၄၅ မှာလိုက်လေ၏။- မကြာမမြင့်မှီ၊ မိုဃ်းကောင်း
ကင်းသည် မိုဃ်းသက်မုန်တိုင်းနှင့်မည်း၍ပြင်း

စွာမိုဃ်းရွာ၏၊ အာဟပ်သည် ရထားစီး၍ယေ
၄၆ ဇရေလမြို့သို့ သွား၏။– ထာဝရဘုရား၏ လက်
တော်သည် ဧလိယအပေါ်မှာရှိ၍၊ သူသည်ခါး
ဝတ်ကို စည်းလျက် အာဟပ်မင်း၏ရှေ့၊ ယေဇ
ရေလမြို့တံခါးဝ သို့ပြေးလေ၏။

## ၁၉

၁ ဧလိယပြုသောအမှုနှင့်၊ ပရောဖက်အပေါင်း
တို့ကို ထားနှင့် ကွပ်မျက်သောအမှုကို၊ အာဟပ်
သည်ယေဇဘေလ အားအကုန်အစဉ် ကြားပြော
၂ ၏။– ယေဇဘေလက၊ နက်ဖြန် ဤအချိန်
ရောက်မှ၊ သင့်အသက်သည် ထိုပရောဖက်တို့၏
အသက်ကဲ့သို့ ငါမဖြစ်စေလျှင်၊ ဘုရားတို့သည်
ငါ၌ ထိုမျှမက ပြုပါစေသောဟု၊ တမန်ကိုဧလိ
၃ ယထံသို့စေလွှတ်၍ကြားလိုက်၏။–ထိုအခါဧလိ
ယသည် ကြောက်သဖြင့်၊ ထ၍ အသက် လွတ်
အောင်ယုဒပြည် ဗေရရှေဘမြို့သို့သွား၏၊ ထိုမြို့
၄ ၌ကျွန်ကိုထားခဲ့၍–သူကိုယ်တိုင်သည်တောသို့
တနေ့ခရီးသွားပြီးလျှင်၊ ရသမ်ပင် အောက်သို့
ရောက်၍ထိုင်လေ၏၊ထိုအခါကိုယ်အသက်သေ
ရစေခြင်းအကြောင်းဆုတောင်းလျက်၊ အိုထာဝရ
ဘုရား၊ ထိုမျှ တန်ပါ၏၊ အကျွန်ုပ် အသက်ကို
ယူတော်မူပါ၊ အကျွန်ုပ်သည်ဘိုးဘေးတို့
ထက်သာ၍မကောင်းပါဟုမြည်တမ်းပြီးလျှင်
၅ ရသမ်ပင်အောက်မှာ အိပ်ပျော်၏၊ ထိုအခါ
ကောင်းကင်တမန်က၊ ထ၍စားလော့ဟု သူကို
၆ ထိလျက်ဆို၏။– ဧလိယသည်မျှော်ကြည့်သော
အခါ၊ မီးနှင့်ဖုတ်သောမုန့်ပြားနှင့်ခေါင်းရင်း၌
ရေဘူးရှိသည်ကိုမြင်၍စားသောက်ပြီးမှတဖန်
၇ အိပ်ပျော်၏။– ထာဝရဘုရား၏ ကောင်းကင်တ
မန်သည်ဒုတိယအကြိမ်လာ၍၊ သူကိုထိလျက်၊
သွားရမည်ခရီးသည် အလွန်ဝေးသောကြောင့်၊
၈ ထ၍စားဦးလော့ဟု ဆိုသည်အတိုင်း– ဧလိယ
သည်ထ၍စားသောက်ပြန်၏၊ထိုအစာအာဟာ
ရကိုအမှီပြုလျက်၊ အရက်လေးဆယ်ခရီး သွား
၍၊ ဘုရားသခင်နှင့် ဆိုင်သော ဟောရပ် တောင်
၉ သို့ရောက်သဖြင့်– ဥမင်ထဲသို့ဝင်၍နေ၏၊ထာဝ
ရဘုရား၏ နှုတ်ကပတ်တော် ရောက်လာသည်
ကား၊ ဧလိယ၊ သင်သည် ဤအရပ်၌ အဘယ်သို့
၁၀ ပြုလျက် နေသနည်းဟု မေးတော်မူ၏။– ဧလိယ
ကလည်း၊ အကျွန်ုပ်သည် ကောင်းကင် ဗိုလ်ခြေ
အရှင် ဘုရားသခင် ထာဝရ ဘုရား ထက် ၌ အ
လွန် စိတ်အားကြီးပါပြီ၊ အကြောင်းမူကား၊ ဣ
သရေလအမျိုးသားတို့သည် ကိုယ်တော်၏ပဋိ
ညာဉ်တရားကိုစွန့်ပြီးလျှင်၊ ကိုယ်တော်၏ယဇ်
ပလ္လင် များကို ဖြိုဖျက်၍၊ ကိုယ်တော်၏ ပရော
ဖက်များကိုထားနှင့်သတ်ကြပါပြီ၊အကျွန်ုပ်တ
ယောက်တည်းကျန်ရစ်၍၊အကျွန်ုပ်အသက်ကို
ပင်သတ်ခြင်းငှါရှာကြပါသည်ဟု လျှောက်လေ
၁၁ ၏။– နှုတ်ကပတ်တော် ကလည်း၊ ထွက်လော့၊
ထာဝရဘုရားရှေ့၊ တောင်ပေါ်မှာ ရပ်နေလော့၊
ထာဝရဘုရားရှောက်သွားမည်ဟုမိန့်တော်မူ၏၊
ထိုအခါအားကြီးသောလေပြင်းသည်တောင်ထိပ်
တို့ကိုခွဲ၍၊ထာဝရဘုရားရှေ့တော်၌ကျောက်တို့
ကိုဖြိုးခွဲ၏၊သို့ရာတွင်၊ ထာဝရဘုရားသည်လေ
၌မရှိတော်မမူ၊ လေနောက်မှာမြေလှုပ်ခြင်းရှိ၏၊
သို့ရာတွင်၊ ထာဝရဘုရားသည်မြေလှုပ်ခြင်း၌
၁၂ ထည်းမရှိတော်မမူ– မြေလှုပ်ခြင်းနောက်မှာမီးရှိ
၏၊ သို့ရာတွင်၊ ထာဝရဘုရားသည်မီး၌ထည်းရှိ
တော်မမူ၊ မီးနောက်မှာငြိမ်းညှင်းသောအသံရှိ
၁၃ ၏။– ထိုအသံကိုဧလိယသည် ကြားလျှင်၊ မျက်
နှာကိုဝတ်လုံနှင့်ဖုံးအုပ်လျက်၊ ထွက်၍ဥမင်ဝ
၌ရပ်နေ၏၊ ထိုအခါ ဧလိယ၊ သင်သည် ဤအရပ်
၌အဘယ်သို့ ပြုလျက်နေသနည်းဟု အသံလာ
၁၄ ၏။– ဧလိယကလည်း၊ အကျွန်ုပ်သည် ကောင်း
ကင် ဗိုလ်ခြေအရှင် ဘုရားသခင် ထာဝရဘုရား
ထက်၌ အလွန်စိတ် အားကြီးပါပြီ၊ အကြောင်း
မူကား၊ ဣသရေလ အမျိုးသား တို့သည် ကိုယ်
တော်၏ ပဋိညာဉ် တရားကို စွန့်ပြီးလျှင်၊ ကိုယ်
တော်၏ ယဇ် ပလ္လင် များ ကို ဖြိုဖျက်၍၊ ကိုယ်
တော်၏ ပရောဖက်များကို ထားနှင့် သတ်ကြပါ
ပြီ၊ အကျွန်ုပ် တယောက်တည်း ကျန်ရစ်၍၊ အ
ကျွန်ုပ် အသက် ကိုပင် သတ်ခြင်းငှါ၊ ရှာကြပါ
၁၅ သည်ဟုလျှောက်လေသော်– ထာဝရဘုရားက၊
ဒမာသက် တော သို့ ပြန်၍ ခရီး သွား လော့၊
ရောက်သောအခါဟာဇေလကိုရှုရိရှင်ဘုရင်အ
၁၆ ရာ၌ ခန့်ထား၍ ဘိသိတ်ပေးလော့၊ နိမ်ရှိသား
ယေဟုကို ဣသရေလရှင်ဘုရင်အရာ၌ ခန့်ထား
၍ ဘိသိတ်ပေးလော့၊ အာဗေလ မေဟောလမြို့
နေ၊ ရှာဖတ်သားဧလိရှဲကိုသင့်ကိုယ်စားပရော
၁၇ ဖက်အရာ၌ခန့်ထား၍ ဘိသိတ်ပေးလော့။– ထို
ဖြစ်၍၊ ဟာဇေလ ထားနှင့် လွတ် သော သူ ကို
ယေဟု သတ်လိမ့်မည်၊ ယေဟု ထားနှင့် လွတ်
၁၈ သောသူကိုဧလိရှဲ သတ်လိမ့်မည်။– သို့ရာတွင်၊
ဗာလရုပ်၌ ဒူးထောက် ခြင်း၊ နမ်းခြင်း ကို မပြု

သောသူအပေါင်းတည်းဟူသော ဣသရေလအ
မျိုးသားခုနှစ်ထောင်တို့ကို၊ ငါအဖို့ငါကျန်ကြွင်း
စေပြီဟုမိန့်တော်မူ၏။
၁၉ ထိုအရပ်မှ ဧလိယ သည် သွား ပြီး လျှင်၊ နွား
ငါးရှည် နှင့် လယ်ထွန်လျက်၊ နောက် ဆုံး နွား
ရှည်၌ ကိုယ်တိုင်လိုက်သော ရှာဖတ်သား ဧလိ
ရှဲကိုတွေ့၍၊ အနားသို့ ရှောက်စည်တွင်၊ မိမိဝတ်
၂၀ လုံကို သူ အပေါ်မှာ တင် လေ၏။- ဧလိရှဲသည်
နွားတို့ကိုပြစ်ထား၍၊ ဧလိယနောက်သို့ လိုက်
လျက်၊ အကျွန်ုပ်သည်မိဘကိုနမ်းပါရစေးသို့ပြီး
မှ၊ ကိုယ်တော်နောက်သို့ လိုက်ပါမည်ဟုအခွင့်
တောင်းလျှင်၊ ဧလိယက၊ ပြန် သွား လော့၊ ငါ
သည် သင် ၌ အဘယ် သို့ ပြုဘိ သ နည်း ဟု ဆို
၂၁ သော်- ဧလိရှဲသည် ပြန်သွား၍ နွား တရှည်ကို
သတ်ပြီးမှ၊ နွား သားကို ထယ်ထွန်သော တန်
ဆာနှင့်ပြုတ်၍၊ လူများတို့အား ကျွေးလေ၏။သို့
ပြီးမှ ထ၍၊ ဧလိယနောက်သို့လိုက်လျက်ထတ်
ထောက်ဖြစ်လေ၏။

၂၀

၁ ရှုရိရှင်ဘုရင် ဗင်္ဟာဒဒ် သည် မိမိဗိုလ် ခြေ အ
ပေါင်းတို့ကို စုဝေးစေ၍၊ မင်းကြီး သုံးကျိပ်နှစ်
ပါးနှင့်တကွမြင်းစီးသူရဲ၊ ရထားစီးသူရဲ ရှားပါ
လျက် စစ်ချီ ပြီးလျှင်၊ ရှမာရိမြို့ကို ဝိုင်းထား ၍
၂ ထိုက် လေ၏။- သံတမန်တို့ကို ဣသရေလ ရှင်
ဘုရင် အာဟပ်ထံ၊ မြို့ထဲသို့စေလွှတ်၍ဗင်္ဟာဒဒ်
၃ ၏အမိန့်တော်ကား၊-သင့်ရွှေငွေသည်ငါ့ဥစ္စာဖြစ်
၏၊ သင့်သားမယားအကောင်းဆုံးတို့ကိုလည်း
၄ ငါပိုင်၏ဟုမှာလိုက်သတည်း၊- ဣသရေလရှင်
ဘုရင်ကအရှင်မင်းကြီး၊ အမိန့်တော်အတိုင်းငါ
နှင့်ငါ့ဥစ္စာရှိသမျှသည်ကိုယ်တော်၏ဥစ္စာဖြစ်ပါ
၅ သည်ဟုပြန်ပြော၏၊- သံတမန် တို့သည် တဖန်
လာ၍ ဗင်္ဟာဒဒ်၏ အမိန့် တော် ကား၊ သင်ပိုင်
သော ရွှေ ငွေ သားမယား တို့ကို ငါ၌ အပ်ရမည်
၆ ဟု ငါမှာလိုက်သည် အမှုမှာ၊- နက်ဖန်နေ့ ယခု
အချိန် ရောက် သော အခါ၊ ငါ ကျွန် တို့ကို ငါစေ
လွှတ်မည်၊သူတို့သည်သင်နေသောအိမ်နှင့်သင့်
ကျွန်နေသော အိမ်တို့ကိုစစ်၍၊ အလိုရှိသမျှတို့
၇ ကိုယူစေရမည်ဟုမှာလိုက်သတည်း၊- ထိုအခါ
ဣသရေလ ရှင်ဘုရင်သည် ပြည်သား အသက်
ကြီးသူ အပေါင်းတို့ကို ခေါ်၍၊ ဤသူသည် အ
ယ်မျှလောက် ရန်ရှာချင်သည်ကိုကြည့်မှတ်
ကြပါလော့၊ ငါ့ရွှေငွေသားမယားတို့ကိုတောင်း
၍ မှာလိုက်သောအခါ၊ ငါမငြင်းပါတကား၊ ဟု
၈ ကြားပြော၏။- အသက်ကြီးသူအပေါင်းတို့နှင့်
ပြည်သားအပေါင်းတို့က၊ ထိုသူ၏စကားကိုနား
ထောင်တော်မမူပါနှင့်၊ ဝန်ခံတော် မမူပါနှင့်ဟု
၉ ပြန် လျှောက် ကြ ၏။- သို့ဖြစ်၍ ရှင် ဘုရင် က၊
ကိုယ် တော် သည် အထက် မိန့် တော်မူသမျှ အ
တိုင်း၊ ကိုယ်တော်ကျွန်ပြုပါမည်၊ နောက်မိန့်တော်
မူသည် အတိုင်း မပြု သင့်ဟု၊ ငါ အရှင် မင်းကြီး
အားပြန်လျှောက်ကြလော့ဟု၊ဗင်္ဟာဒဒ်၏သံတ
မန်တို့အားမှာလိုက်လျှင်၊ထိုသူတို့သည်သွား၍
၁၀ လျှောက်ကြ၏။- တဖန်ဗင်္ဟာဒဒ်သည်စေလွှတ်
၍၊ ရှမာရိမြို့၌ရှိသောမြေမှုန့်သည် ငါ့နောက်သို့
လိုက်သော သူအပေါင်းတို့တွင်၊ တယောက်တ
ဆက်ဆုပ်မီစေ့လောက်လျှင်၊ ဘုရားတို့သည်
ငါ၌ ထိုမျှမက ပြုပါ စေ သောဟု မှာလိုက် လေ
၁၁ သော်- ဣသရေလရှင်ဘုရင်က၊ ထက်နက်စုံကို
ချွတ်သော သူသည်ဝါကြွားသကဲ့သို့၊ ဝတ်ဆင်
သောသူသည် မဝါ ကြွားစေနှင့်ဟု ပြန်ပြော၏။-
၁၂ ဗင်္ဟာဒဒ်သည် မင်းကြီး တို့နှင့်တကွ ထဲတော်၌
သောက် စည်၊ ထိုစကား ကို ကြားလျှင် စစ်ခင်း
ကျင်းကြဟု၊ မိမိကျွန်တို့အား မိန့်တော် မူသည်
အတိုင်း၊ သူတို့ သည် မြို့ ရှေ့ မှာ စစ် ခင်း ကျင်း
ကြ၏။
၁၃ ထိုအခါ ပရောဖက် တပါး သည် ဣသရေလ
ရှင်ဘုရင် အာဟပ်ထံသို့လာ၍၊ ထာဝရ ဘုရား
မိန့်တော်မူသည်ကား၊ ထိုကြီးစွာသောအလုံးအ
ရင်းအပေါင်းကိုမြင်ပြီလော၊ သင့်လက်၌ယနေ့
ငါအပ်မည်၊ ငါသည်ထာဝရဘုရားဖြစ်ကြောင်း
ကိုသင်သိရလိမ့်မည်ဟု၊ အမိန့်တော်ကိုဆင့်ဆို
၁၄ ၏။-အာဟပ်ကသည်း၊ အဘယ်သူအားဖြင့်အပ်
တော်မူ မည်နည်းဟု မေးလျှင်၊ မြို့ဝန်များ၏ လု
လင်တို့အားဖြင့်အပ်မည်ဟု၊ ထာဝရဘုရားမိန့်
တော် မူကြောင်းကို ဆင့်ဆို၏၊ စစ်မှုကို အဘယ်
သူစီရင် ရမည် နည်းဟု မေးပြန်သော်၊ မင်းကြီး
၁၅ ကိုယ်တိုင် စီရင် ရမည်ဟု ဆို၏၊- အာဟပ်မင်း
သည် မြို့ဝန်များ၏ လုလင်တို့ကိုရေတွက်၍၊ နှစ်
ရာသုံးဆယ် နှစ်ယောက်ရှိ၏။ ဣသရေလအမျိုး
သား အပေါင်း တို့ကို ရေ တွက်ပြန် သော်၊ ခုနှစ်
၁၆ ထောင် ရှိ၏။- မွန်း တည့် အချိန်၌ ထွက် ကြ၏။
ဗင်္ဟာဒဒ် မင်း မူကား၊ ပိုင်း သော မင်းကြီး သုံး
ဆယ် နှစ်ပါး တို့နှင့် တကွ၊ ထဲ တော် ၌ ထစ်မူး
၁၇ အောင် သောက် လျက် နေကြ၏။- မြို့ဝန် များ ၏

လုလင်တို့သည် အရင် ထွက်ကြ၏။ ရှမာရိမြို့ထဲ
ကလူထွက် ပါသည်ဟု၊ ဗင်္ဟာဒဒ် မင်း ထံသို့ စေ
၁၈ လွှတ်၍ကြား လျှောက်လျှင် - စစ်ပြိမ်းစေခြင်းငှါ
ထွက်သည်ဖြစ်စေ၊ စစ်တိုက်ခြင်းငှါ ထွက်သည်
၁၉ ဖြစ်စေ၊ အရှင်ဖမ်းဆီးကြဟု မိန့်တော်မူ၏။- ထို
သို့မြို့ဝန်များ၏လုလင်တို့သည်လိုက်သော ဗိုလ်
၂၀ ခြေနှင့်တကွ မြို့ထဲက ထွက်၍- ရန်သူ တို့ကိုလု
တိုင်း တယောက်စီ သတ်ကြ သဖြင့်၊ ရှုရိ လူတို့
သည် ပြေးကြ၏။ ဣသရေလ လူတို့သည် လိုက်
ကြ သဖြင့်၊ ရှုရိ ရှင်ဘုရင် ဗင်္ဟာဒဒ် သည် မြင်း
စီး၍၊ မြင်းစီးသူရဲ တို့နှင့်အတူ အလွတ်ပြေး၏။-
၂၁ ဣသရေလရှင်ဘုရင် သည်လည်းထွက်၍ မြင်း
တပ်၊ ရထား တပ်များကို ဖျက်၍၊ ရှုရိလူတို့ကို
ကြီးစွာသော လုပ်ကြံခြင်းအားဖြင့်သတ်လေ၏။
၂၂ တဖန်ပရောဖက်သည် ဣသရေလ ရှင်ဘုရင်
ထံသို့လာ၍၊ ကိုယ်ကို ခိုင်ခံ့စေလော့။ အထယ်
သို့ပြုရမည်ကိုသတိနှင့်ဆင်ခြင်လော့။ နှစ်လည်
သောအခါ၊ ရှုရိရှင်ဘုရင်သည်စစ်ချီ၍ လာလေ
၂၃ ဦးမည်ဟု ဆို၏။- ရှုရိ ရှင် ဘုရင် ၏ ကျွန် တို့က
လည်း၊ သူတို့၏ဘုရားသည်တောင်ကိုသာ အစိုး
ရသောဘုရား ဖြစ်၏။ ထိုကြောင့်၊ သူတို့သည်ငါ
တို့ကိုနိုင်ပါ၏။ ငါတို့သည်လွင်ပြင်၌ တခါတိုက်
ကြကုန်အံ့။ ထိုသို့တိုက်လျှင် စင်စစ်နိုင်ကြလိမ့်
၂၄ မည်။-မင်းကြီးအပေါင်းတို့ကိုလည်းပယ်၍၊သူ
တို့အရာ၌ ဗိုလ်ချုပ်တို့ကို ခန့်ထားတော်မူပါ။-
၂၅ ရှုံးသော မြင်းတပ်၊ ရထား တပ် နှင့် အမျှ များ
သော တပ်ကို ခင်းကျင်း တော်မူပါ။ လွင်ပြင်၌
တိုက် ၍ ဆက် ဆက် နိုင် ကြ ပါ လိမ့် မည် ဟု၊
လျှောက် ထားသော စကားကို ရှင်ဘုရင် သည်
၂၆ နားထောင်၍စီရင်လေ၏။- နှစ်လည်သောအခါ
ဗင်္ဟာဒဒ် မင်း သည် ရှုရိ လူ တို့ကို ရေ တွက် ၍၊
ဣသရေလ ပြည်သား တို့ကို စစ်တိုက် အံ့သော
၂၇ ငှါ၊ အာဖက်မြို့သို့ ချီသွား၏။- ဣသရေလအမျိုး
သား တို့သည် စာရင်းဝင်၍ ရိက္ခာကို ဖျင်ဆင်
ပြီးမှ စစ်ချီကြ၏။ ရှုရိလူတို့သည်တပြည်လုံးအ
နှံ့ အပြား နေ လျက်၊ သူတို့ ရှေ့မှာ၊ ဣသရေလ
လူ တို့သည် ငယ်သော ဆိတ်သငယ် နှစ်စု ကဲ့သို့
တပ်ချကြ၏။
၂၈ ဘုရား သခင်၏ လူတယောက်သည် ဣသရေ
လရှင် ဘုရင် ထံသို့ လာ ၍၊ ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ ရှုရိလူတို့က၊ ထာဝရဘုရား
သည်တောင်ကိုသာ အစိုးရသော ဘုရားဖြစ်၏။
လွင်ပြင်ကို အစိုးရသော ဘုရား မဟုတ်ဟု ဆိုမိ
သောကြောင့်၊ ထိုကြီးစွာသော အလုံးအရင်းအ
ပေါင်းကိုသင့်လက်သို့ငါအပ်မည်။ငါသည်ထာ
ဝရဘုရား ဖြစ်ကြောင်းကို သင်တို့သိရ ကြလိမ့်
၂၉ မည်ဟု၊မိန့်တော်မူကြောင်းကိုဆင့်ဆို၏။-ထိုသူ
တို့သည်ခုနစ်ရက်ပတ်လုံး၊ တဖက်တချက်တွင်
တပ်ချလျက်နေပြီးမှ၊ သတ္တမ နေ့၌ စစ်ပြိုင်၍ ဣ
သရေလ လူတို့ သည် တနေ့ ချင်းတွင်၊ ရှုရိ ခြေ
၃၀ သည် သူရဲ တသိန်းကို သတ် ကြ၏။- ကျန်သော
သူတို့ သည် အာဖက် မြို့သို့ ပြေး၍ မြို့ ရိုး လဲ သ
ဖြင့် နှစ်သောင်းခုနစ်ထောင်ကိုမိလေ၏။ ဗင်္ဟာ
ဒဒ် သည် ပြေး၍ မြို့ထဲ၊ အတွင်း အခန်း၌ ပုန်း
၃၁ လျက် နေ၏။- ဗင်္ဟာဒဒ် ၏ ကျွန်တို့ က လည်း၊
ဣသရေလအမျိုးသားရှင်ဘုရင်တို့သည် သနား
တတ်သော မင်း ဖြစ်ကြောင်းကို ကျွန်တော် တို့
ကြားပါပြီ။ ကျွန်တော်တို့သည်လျှော်တေအဝတ်
ကိုဝတ်၍၊ ခေါင်းပေါ်မှာကြိုးကိုရစ်လျက်၊ ဣ
သရေလ ရှင်ဘုရင်ထံသို့ ထွက်ရသောအခွင့်ကို
ပေးတော်မူပါ။ အသက်တော်ကို ချမ်းသာ ပေး
ကောင်း ပေးပါ လိမ့် မည်ဟု လျှောက် သည် အ
၃၂ တိုင်း- လျှော်တေအဝတ်ကို ဝတ်၍၊ခေါင်းပေါ်
မှာကြိုးကို ရစ်လျက်၊ ဣသရေလရှင်ဘုရင် ထံ
သို့ရောက်လျှင်၊ ကိုယ်တော် ကျွန် ဗင်္ဟာဒဒ်က၊
ကျွန်တော် အသက်ကို ချမ်းသာ ပေးတော် မူပါ
ဟု၊ တောင်းပန်ကြောင်းကို လျှောက်ကြ သော်၊
အာဟပ် မင်းက၊ ငါ့ အစ်ကိုသည် အသက် ရှင်
၃၃ သေးသလောဟု မေး၏။-ထိုသူတို့သည် အာဟပ်
မင်း၏ စကားကို စေ့စေ့နားထောင်၍၊ ချက်ချင်း
စကား အရိပ်ကိုဖမ်းလျက်၊ ကိုယ်တော်အစ်ကို
ဟူ ၍ မိမိ တို့ သခင် ကိုခေါ်ကြ၏။ အာဟပ် က
လည်း၊ သွား၍ခေါ်ကြလော့ဟု စေလွှတ်သည်
အတိုင်း၊ ဗင်္ဟာဒဒ်သည်ထွက်လာ၍၊ အာဟပ်
မင်းအခွင့်နှင့် ရထား တော်ပေါ်သို့ တက်ရ၏။-
၃၄ ဗင်္ဟာဒဒ် က လည်း၊ ငါ့ အဖ သည် ကိုယ် တော်
အဖ၏ လက်မှ လုယူသောမြို့တို့ကို ငါပြန် ပေးပါ
မည်။ ငါ့အဖသည် ရှမာရိ မြို့၌ ရှုရိတန်းကိုလုပ်
သကဲ့သို့၊ ကိုယ်တော်သည် ဒမာသက်မြို့၌ ဣသ
ရေလ တန်းကို လုပ်ရ ပါသည်ဟု ဆိုလျှင်၊ အာ
ဟပ်က၊ ထိုသို့မိဿဟာယဖွဲ့လျက်၊ သင့်ကိုငါ
လွှတ် လိုက်မည်ဟု ဆို၍၊ မိဿဟာယဖွဲ့လျက်
လွှတ် လိုက်လေ၏။
၃၅ ပရောဖက် အမျိုး သား တယောက် က၊ ငါ့ကို

မှတ်ပါ သော့ဟု၊ ထာဝရဘုရား၏ နှုတ်ကပတ်
တော် အတိုင်း၊ အိမ်နီးချင်း အား ဆို၏။ ထိုသူ
၃၆ က၊ ငါ့မရိုက်ပါဟု ငြင်းပယ်၏။- ပရောဖက် က
လည်း၊ ထာဝရဘုရား၏ အမိန့်တော်ကို နားမ
ထောင်သော့ကြောင့်၊ ငါ့ထံမှသွားစဉ်တွင်၊ ခြင်
သေ့ သတ်လိမ့်မည်ဟု ဆိုသည်အတိုင်း၊ ထိုသူ
၃၇ သွားစဉ်တွင် ခြင်သေ့တွေ့၍သတ်၏။- အခြား
သောသူကိုတွေ့၍၊ ငါ့ကိုရိုက်ပါလော့ဟု ဆိုပြန်
၃၈ လျှင်၊ ထိုသူသည်နာကြင်စွာရိုက်လေ၏။- ထိုပ
ရောဖက်သည်သွား၍၊ မိမိမျက်နှာကိုပဝါနှင့်ဖုံး
၃၉ အုပ်လျက်ရှင်ဘုရင်ကိုငံ့ထင့်၏။-ရှင်ဘုရင်သည်
ရှောက်သွား၊ သောအခါ ထိုသူက၊ ကိုယ်တော်
ကျွန်သည် စစ်တိုက် သွားပါ၏။ လူ တယောက်
သည် စစ်ပွဲထဲကထွက်လာ၍၊ ကျွန်တော်၌လူ
တယောက်ကို အပ်သဖြင့်၊ ဤလူကိုစောင့်လော့၊
တစုံတခု အားဖြင့်ပျောက်လျှင်၊ သူ့အသက်အ
တွက် သင့်အသက် သေရမည်။ သို့မဟုတ်၊ ငွေ
အခွက်တဆယ် လျော်ရမည်ဟု မှာထားသော်
၄၀ လည်း၊- ကိုယ် တော် ကျွန် သည် အရပ် ရပ် ၌
အမှု များသောအခါ၊ ထိုသူပျောက်ပါ သည်ဟု
လျှောက်လျှင်၊ ဣသရေလရှင်ဘုရင်က၊ သင့်အ
မှုကိုထိုသို့ပင်စီရင်ရမည်၊ သင့်ကိုယ်တိုင်လည်း
၄၁ စီရင်ပြီးဖြစ်သည်ဟု မိန့်တော်မူ၏။- ထိုပရော
ဖက်သည် မျက်နှာဖုံး ပဝါကို ချက်ချင်း ပယ်သ
ဖြင့်၊ပရောဖက်တစုံတပါးဖြစ်ကြောင်းကိုဣသ
၄၂ ရေလ ရှင်ဘုရင် သိ၏။- ပရောဖက် က လည်း၊
ထာဝရ ဘုရား မိန့်တော်မူ သည်ကား၊ ငါကျိန်
သောသူကိုသင်လွှတ်သော့ကြောင့်၊သင့်အသက်
သည်သူ့အသက်အတွက်၊သင့်လူတို့သည်သူ့လူ
တို့အတွက်အရှုံးခံရမည်ဟု၊မိန့်တော်မူကြောင်း
၄၃ ကိုဆင့်ဆို၏။- ဣသရေလရှင်ဘုရင်သည် ညစ်
ညူးသောမိတ်နှင့် ညှိုးငယ်လျက်ရှမာရိမြို့၊နန်း
တော်သို့သွား၏။

၂၁

၁ ထိုနောက်မှ၊ ယေဇရေလမြို့သား နာဗုတ်ပိုင်
သော စပျစ်ဥယျာဉ်သည် ယေဇရေလ မြို့တွင်၊
ရှမာရိ မင်းကြီး အာဟပ်၏ နန်းတော်နားမှာ ရှိ
၂ သည်ဖြစ်၍-အာဟပ်မင်းက၊သင့်စပျစ်ဥယျာဉ်
သည်နန်းတော်နားမှာရှိသော့ကြောင့်၊ ဟင်းလျာ
စရာဖို့ပေးပါ။ သာ၍ ကောင်းသော ဥယျာဉ်ကို
ငါပေးမည်။ သို့မဟုတ်၊သင်အလိုရှိလျှင်အဘိုး
၃ ကိုပေးမည်ဟုနာဗုတ်အားဆိုလျှင်-နာဗုတ်က၊
ဘိုးဘေး ထံက အမွေခံ သော မြေ ကို ကိုယ်
တော်အားပေးရသောအမှုကိုထာဝရဘုရားဆီး
တားတော် မူပါ စေ သော ဟု ပြန် လျှောက်၏။-
၄ ထိုအဘေးမှအမွေခံသောမြေကိုမပေးရဟု၊ ယေ
ဇရေလ မြို့သား နာဗုတ် လျှောက်သော စကား
ကြောင့်၊ အာဟပ်မင်းသည်ညစ်ညူးသောမိတ်
နှင့် ညှိုးငယ်လျက်၊ နန်းတော်သို့သွား၍ အစာ
ကိုမစား၊ မျက်နှာကိုလွှဲ၍သာလွန်ပေါ်မှာအိပ်
၅ လျက်နေ၏။-ခင်ပွန်းယေဇဗေလ သည်လာ၍၊
အစာကို မစား နွှင်းအောင်၊ မိတ်တော်သည် အ
ထယ် ကြောင့် ညှိုးငယ်တော်မူသနည်းဟု မေး
၆ လျှင်-မင်းကြီးက၊ ယေဇရေလ မြို့သားနာဗုတ်
ကိုငါခေါ်၍၊သင့်စပျစ်ဥယျာဉ်ကိုရောင်းပါ။သို့
မဟုတ်၊ သင်အလိုရှိလျှင်အခြားသော ဥယျာဉ်
ကိုငါပေးမည်ဟုဆိုသော်၊ ထိုဥယျာဉ်ကို ကိုယ်
တော်အား မပေးရဟု ပြန်ပြော သော့ ကြောင့်၊
၇ မိတ်ညှိုးငယ်သည်ဟုဆို၏။- ခင်ပွန်းယေဇဗေ
လက၊ ကိုယ်တော်သည် ဣသရေလ နိုင်ငံကိုအ
စိုးရတော်မူသည်မဟုတ်လော။ ထ၍ ရွှင်လန်း
သော မိတ်နှင့် စားတော်ခေါ်ပါ။ ကျွန်မ သည်
ယေဇရေလ မြို့သား နာဗုတ်၏ စပျစ်ဥယျာဉ်ကို
၈ ဆက်ပါမည်ဟုဆိုသည်အတိုင်း၊-အာဟပ်မင်း
၏ အခွင့်နှင့်စာရေး၍၊ တံဆိပ်တော်နှင့်ခတ်ပြီး
မှ၊ နာဗုတ် နေရာမြို့၌ သူနှင့်အတူ နေ သော အ
သက်ကြီးသူ၊ နှင့်မှူးမတ်များထံသို့ပေးလိုက်လေ
၉ ၏။- ဝါဒျက်ဟူမူကား၊အစာရှောင်ရာအချိန်ကို
ကြွေးကြော်၍၊ နာဗုတ်ကိုလူများရှေ့မှာမြှောက်
၁၀ ထားကြလော့။-သူ့ရှေ့မှာအစဉ်လူနှစ်ယောက်
ကိုထား၍၊သင်သည်ဘုရားသခင်နှင့်ရှင်ဘုရင်
ကိုငြိန့်ပယ်ပြီဟုသက်သေခံပါလေစေ၊သို့ပြီးမှ၊
သူကိုထုတ်၍သေစေခြင်းငှါ၊ကျောက်ခဲနှင့်ပစ်
၁၁ ကြလော့ဟု ပါသတည်း။- ယေဇဗေလ ပေး
လိုက် သော စာ၌ ပါသည် အတိုင်း၊ နာဗုတ် နေ
သောမြို့သားအသက်ကြီးသူ၊နှင့်မှူးမတ်တို့သည်
၁၂ ပြုလျက်- အစာရှောင်ရာအချိန်ကို ကြွေးကြော်
၍၊ နာဗုတ်ကို လူများ ရှေ့မှာ မြှောက်ထားကြ
၁၃ ၏။- အစဉ်လူနှစ်ယောက်သည် လာ၍၊ သူ့ရှေ့
မှာထိုင်လျက်၊ နာဗုတ်သည် ဘုရားသခင် နှင့်
ရှင်ဘုရင်ကို ငြိန့်ပယ်ပြီဟု၊ လူပရိသတ်ရှေ့တွင် နာ
ဗုတ်တဖက်၌သက်သေခံကြလျှင်၊နာဗုတ်ကိုမြို့
ပြင်သို့ထုတ်၍၊ သေအောင် ကျောက်ခဲနှင့် ပစ်
၁၄ ကြ၏။- ထိုအခါ နာဗုတ် သည် ကျောက်ခဲ နှင့်

ဖြစ်မြင်းကိုစီးရ၍သေပါပြီဟု၊ယေဇဗေလထံသို့
၁၅ အထွတ်၍ကြား၊လျှောက်ကြ၏။-ထိုအကြောင်း
ကို ယေဇဗေလ သည်ကြား၍လျှင်၊ ယေဇရေလ
မြို့သား၊ နာဗုတ် မရောင်း ထိုသော စပျစ် ဥယျာဉ်
ကို ထ၍ သိမ်းယူ တော်မူပါ။ နာဗုတ် အသက်
၁၆ မရှိ၊ သေပါ ပြီဟု ဆို၏။- နာဗုတ် သေကြောင်း
ကို အာဟပ် သည် ကြား၍လျှင်၊ ယေဇရေလ မြို့
သား၊နာဗုတ်၏ စပျစ်ဥယျာဉ်ကိုသိမ်းယူခြင်းငှါ
ထသွား၏။

၁၇ ထိုအခါတိရှဘိမြို့သား၊ဧလိယထံသို့ရောက်လာ
၁၈ သောထာဝရဘုရား၏နှုတ်ကပတ်တော်က-ထင်
သည့်ရှမာရိမြို့၌ နေသော ဣသရေလ ရှင်ဘုရင်
အာဟပ်ကိုကြိုဆိုဖို့သွားငှါထသွား၍၊ သူ
သည် နာဗုတ်၏စပျစ်ဥယျာဉ်ကိုသိမ်းယူခြင်းငှါ
၁၉ သွား၍၊ ထိုဥယျာဉ်၌ရှိ၏။- ထာဝရဘုရားမိန့်
တော်မူသည် ကား၊ သင်သည် လူ အသက် ကို
သတ်၍၊ သူ့ဥစ္စာကိုသိမ်းယူပြီလော၊ တဖန်မိန့်
တော်မူသည်ကား၊ခွေးတို့သည်နာဗုတ်အသွေး
ကိုလျက်သောအရပ်၌သင့်အသွေးကိုပင်လျက်
ကြလိမ့်မည်ဟု၊ မိန့်တော်မူကြောင်းကို သင့်ဆို
၂၀ လော့ဟုမှာထားတော်မူ၏။-အာဟပ်ကလည်း၊
အကျွန်ုပ်ရန်သူ၊ငါ့နှင့်တွေ့ပြီလောဟု ဧလိယအား
ဆိုလျှင်၊ဧလိယက၊သင်သည်ထာဝရဘုရားရှေ့
တော်၌ ဒုစရိုက်ကို ပြု ထို့၍၊ ကိုယ်ကို ရောင်း
၂၁ သောကြောင့်သင်နှင့်ငါတွေ့ပြီ။-ထာဝရဘုရား
မိန့် တော် မူ သည် ကား၊ သင့် အ ပေါ် သို့ ဘေး
ဥပါဒ်ရောက်စေမည်။ ဣသရေလမြို့ရွာ၌ချုပ်
ထားသောသူဖြစ်စေ၊ အလွတ်ပြေးသောသူဖြစ်
စေ၊အာဟပ်အမျိုးသောကျားများကိုပယ်ဖြတ်
၂၂ မည်။- ငါ့အမျက်ကို နှိုးဆော်သော အပြစ် နှင့်
ဣသရေလ အမျိုး ကို ပြစ် မှား စေ သော အပြစ်
ကြောင့်၊ သင့်အမျိုးကိုနေဗတ်၏သား၊ ယေရော
ဗောင်အမျိုးနှင့်၊ အဟိယ၏သား၊ ဗာရှာ အမျိုး
၂၃ ကဲ့သို့ငါဖြစ်စေမည်။-ယေဇဗေလအမှုမှာ၊ထာ
ဝရဘုရား မိန့်တော် မူသည်ကား၊၊ ယေဇရေလ
မြို့ရိုး နား၌ ခွေး တို့သည် ယေဇဗေလကို စား
၂၄ ကြလိမ့်မည်။- အာဟပ် အမျိုး သည် မြို့ထဲမှာ
သေလျှင်ခွေးစားလိမ့်မည်။ မြို့ပြင်မှာ သေလျှင်
မိုဃ်း ကောင်း ကင်ငှက် စားလိမ့်မည်ဟု၊ မိန့်
တော် မူကြောင်းကို အာဟပ်အား ဆင့် ဆို၏။-
၂၅ အာဟပ်နှင့် တူသော သူ တယောက်မျှ မရှိ၊ ခင်
ပွန်း ယေဇဗေလသည် တိုက်တွန်းသဖြင့်၊ ထာ
ဝရဘုရားရှေ့တော်၌ဒုစရိုက်ကိုပြုလို၍၊ ကိုယ်
၂၆ ကိုရောင်းသောသူဖြစ်၏။-ထာဝရဘုရားသည်ဣ
သရေလအမျိုးရှေ့မှ နှင်ထုတ်တော်မူသောအာ
မောရိအမျိုးသား ပြုသမျှ အတိုင်း၊၊ ရုပ်တုဆင်း
တုကို သည်း ကပ်၍၊ စက်ဆုပ် ရွံရှာ ဖွယ် အမှု
၂၇ ကိုပြု၏။-သို့ရာတွင်၊ဧလိယဆင့်ဆိုသောစကား
တော်ကိုကြား၍လျှင်၊မိမိအဝတ်ကိုဆုတ်၍လျှော်
တေ အဝတ်ကိုဝတ်၏၊ အစာရှောင်ခြင်း၊၊ လျှော်
တေ အဝတ်၌ အိပ် ခြင်းကို ပြု၍၊ ဖြည်း ဖြည်း
၂၈ သွားသော၏။-ထာဝရဘုရား၏နှုတ်ကပတ်တော်
သည်တိရှဘိမြို့သား၊ဧလိယသို့ရောက်လာသည်
၂၉ ကား-အာဟပ်သည်ငါ့ရှေ့မှာနှိမ့်ချသည်ကိုမြင်
ပြီလော၊ ထိုသို့ ငါ့ရှေ့မှာ နှိမ့်ချသောကြောင့်၊ သူ
ထက်ထက်၌ ထိုဘေးဥပါဒ်ကို ငါမရောက်စေ၊
သူ့သားထက်ထက်၌ သူ့အမျိုးအပေါ်သို့ရောက်
စေမည်ဟုမိန့်တော်မူ၏။

၂၂

၁ ရှုရိပြည်နှင့် ဣသရေလပြည်သည်စစ်မတိုက်
၂ ဘဲ သုံးနှစ် နေပြီးမှ- တတိယ နှစ်တွင်၊ ယုဒ ရှင်
ဘုရင် ယောရှဖတ် သည် ဣသရေလ ရှင် ဘုရင်
၃ ထံသို့ သွား၏။- ဣသရေလ ရှင်ဘုရင် ကလည်း၊၊
ဂိလဒ်ပြည်ရာမုတ်မြို့သည် ငါတို့နိုင်ငံအဝင်ဖြစ်
သည်ကို သင်တို့မသိသလော၊ ငါတို့သည်ရှုရိရှင်
ဘုရင်လက်မှမနှုတ်မယူဘဲ ငြိမ်သက် စွာနေကြ
၄ ပြီတကားဟု၊ မိမိကျွန် တို့အား ဆို၏။- ယောရှ
ဖတ် မင်းအားလည်း၊၊ ဂိလဒ်ပြည် ရာမုတ် မြို့သို့
ငါနှင့်အတူစစ် ချီမည်လောဟု မေးလျှင်၊ ယော
ရှဖတ်က၊ ငါသည်မင်းကြီးကဲ့သို့ဖြစ်၏။ ငါ့လူတို့
သည် မင်းကြီး၏ လူ ကဲ့သို့ဇင်၊ ငါ့မြင်း တို့ သည်
မင်းကြီး၏ မြင်းကဲ့သို့ဇင် ဖြစ်ကြသည်ဟု၊ ဣသ
ရေလရှင်ဘုရင်အားပြန်ပြော၏။
၅ တဖန် ယောရှဖတ်က၊ ထာဝရဘုရား၏ နှုတ်
ကပတ်တော်ကို ယနေ့ မေးမြန်း ပါလော့ဟု၊ ဣ
၆ သရေလ ရှင်ဘုရင်အား ဆိုသော်- ဣသရေလ
ရှင်ဘုရင်သည် ပရောဖက် လေးရာ တို့ကို စုဝေး
စေပြီးလျှင်၊ငါသည်ဂိလဒ်ပြည်ရာမုတ်မြို့သို့စစ်
ချီကောင်း သလော၊ မချီဘဲ နေကောင်းသလော
ဟုမေး သော်၊ သူတို့က ချီတော် မူပါ။ ထာဝရ
ဘုရားသည်အရှင်မင်းကြီး၏လက်တော်သို့အပ်
၇ တော်မူမည်ဟု လျှောက်ကြ၏။- ယောရှဖတ်က
လည်း၊၊ ငါတို့ မေးမြန်းစရာ ထာဝရ ဘုရား၏
ပရောဖက် တစုံတပါးမျှ မရှိ သလောဟု မေး

၈ သော်- ဣသရေလရှင်ဘုရင်က၊ ထာဝရဘုရား
ကိုမေးမြန်းရသော သူတယောက်၊ ဣမလသား
မိက္ခာရှိသေး၏။ သို့ရာတွင်၊ ထိုသူကို ငါမုန်း၏။
ငါ၌မင်္ဂလာစကားကိုမဟော၊ အမင်္ဂလာစကား
ကိုသာဟောတတ်သည်ဟုယောရှဖတ်အား ဆို
လျှင်၊ ယောရှဖတ် က၊ ထိုသို့ မင်းကြီး မပြောပါ
၉ နှင့်ဟုပြန်ဆို၏။- ထိုအခါဣသရေလ ရှင်ဘုရင်
သည်အရာရှိတယောက်ကိုခေါ်၍၊ ဣမလ သား
မိက္ခာကိုအလျင်အမြန်ခေါ်ခဲ့ဟု မိန့်တော်မူ၏။-
၁၀ ဣသရေလ ရှင် ဘုရင်နှင့် ယုဒရှင် ဘုရင် ယောရှ
ဖတ်တို့သည် မင်းမြောက်တန်ဆာကို ဝတ်ဆင်
လျက်၊ ရှမာရိမြို့တံခါးဝရှေ့၊ ထင်းလင်းသောအ
ရပ်၌ရာဇပလ္လင်တို့အပေါ်မှာထိုင်၍၊ ပရောဖက်
အပေါင်းတို့သည်ရှေ့တော်၌ဟောပြောကြ၏။-
၁၁ ခေနာနာသား၊ ဇေဒကိသည်သံဦးချိုတို့ကို လုပ်
၍၊ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ကိုယ်
တော်သည် ရှုရိလူတို့ကိုမပျက်ဆီးမှီ တိုင်အောင်၊
ဤဦးချိုတို့နှင့်ထိုးရမည်ဟု၊မိန့်တော်မူကြောင်း
၁၂ ကိုဆင့်ဆို၏။- ပရောဖက်အပေါင်းတို့ကလည်း၊
ဂိလဒ်ပြည်ရာမုတ် မြို့သို့စစ်ချီ၍ အောင်တော်မူ
ပါ။ ထာဝရဘုရားသည် အရှင်မင်းကြီး၏လက်
တော်သို့ အပ် တော် မူမည်ဟု၊ ပရောဖက် ပြု၍
၁၃ ဟော ကြ၏။- မိက္ခာ ကို ခေါ် သော ဘမန် က၊
ပရောဖက် အပေါင်းတို့သည် မင်္ဂလာစကားကို
အရှင်ဘုရင်အား၊ တညီ တညွတ်တည်းဟော
ကြ၏၊ ကိုယ်တော်လည်း၊ သူတို့ဟောကြ သည်
နည်း တူ၊မင်္ဂလာစကားကိုသာ ဟောတော်မူပါ
၁၄ ဟုဆိုလျှင်- မိက္ခာက၊ ထာဝရဘုရား အသက်
ရှင်တော် မူသည် အတိုင်း၊ ထာဝရဘုရား မိန့်
တော်မူသော စကား ကိုသာ ငါပြန် ပြော ရမည်
ဟုဆို၏။
၁၅ ရှင်ဘုရင်ထံသို့ ရောက်သော အခါ ရှင်ဘုရင်
က၊ အချင်းမိက္ခာ၊ ငါတို့သည်ဂိလဒ်ပြည်ရာမုတ်
မြို့သို့ စစ်ချီကောင်းသလော၊ မချီဘဲနေကောင်း
သလောဟုမေးလျှင်၊ မိက္ခာက၊ စစ်ချီ၍ အောင်
တော်မူပါ၊ထာဝရဘုရားသည်အရှင်မင်းကြီး၏
လက်တော်သို့အပ်တော်မူမည်ဟု ပြန်လျှောက်
၁၆ ၏။- ရှင်ဘုရင်ကလည်း၊ မှန်သောစကား၊မှတပါး
အခြားသောစကားကိုထာဝရဘုရား အခွင့်နှင့်
ထင်သည် ငါ့အား မဟောမည် အကြောင်း၊ ငါ
သည်၊ အဘယ်နှစ်ကြိမ်တိုင်အောင်၊ သင့်အား အ
၁၇ ကျိန်ပေးရမည်နည်းဟု မေးသော်- မိက္ခာက၊ ဣ
သရေလအမျိုးသားအပေါင်းတို့သည်၊ သိုးထိန်း
မရှိသော သိုးကဲ့သို့၊ တောင်ရှား အပေါ် မှာ အ
ရပ်ရပ် ကွဲပြား လျက် ရှိကြ သည်ကို ငါ မြင်ပြီ။
ထာဝရဘုရားကလည်း၊ ဤသူအပေါင်းတို့သည်
အရှင်မရှိသော ကြောင့်၊ အသီးအသီးကိုယ်နေ
ရာသို့ပြန်ကြ ပါစေဟု၊ မိန့်တော်မူကြောင်း
၁၈ ကို လျှောက် ဆို၏။- ဣသရေလ ရှင် ဘုရင် က
လည်း၊ သူသည်ငါ၌ မင်္ဂလာစကားကို မဟော၊
အမင်္ဂလာ စကား ကိုသာ ဟော တတ် သည် ဟု၊
မင်းကြီးအား ငါမပြောသလောဟု ယောရှဖတ်
၁၉ အား ဆို၏။- မိက္ခာကလည်း၊ သို့ဖြစ်၍၊ ထာဝရ
ဘုရား၏ အမိန့်တော်ကို နားထောင်ပါ၊ ထာဝရ
ဘုရား သည် ပလ္လင် တော် ပေါ် မှာ ထိုင် တော်မူ
သည်ကိုငှင်း၊ ကောင်းကင်ဗိုလ်ခြေ အပေါင်းတို့
သည် လက်ျာတော်ဘက်၊ လက်ဝဲတော်ဘက်၌
၂၀ ရပ်နေကြသည်ကိုငှင်းငါမြင်ပြီ။- ထာဝရဘုရား
ကလည်း၊အာဟပ်သည်ဂိလဒ်ပြည်ရာမုတ်မြို့သို့
စစ်ချီ၍ဆုံးစေခြင်းငှါ၊ အဘယ်သူသွေးဆောင်
မည်နည်းဟုမေးတော်မူလျှင်၊အခြံအရံတော်တို့
သည်တယောက်တနည်း၊ပြန်လျှောက်ကြ၏။-
၂၁ အနန်ဝိညာဉ်တပါးသည်ထ၍၊ထာဝရဘုရား
ရှေ့တော်၌ ရပ်လျက်၊ အကျွန်ုပ် သွေး ဆောင်ပါ
၂၂ မည်ဟု လျှောက်လျှင်- ထာဝရ ဘုရားက၊ အ
ဘယ်သို့ သွေးဆောင်မည်နည်းဟု မေးတော်မူ
သော်၊အကျွန်ုပ်သွား၍ ထိုမင်းကြီး၏ပရောဖက်
အပေါင်းတို့အထဲမှာ၊မုသာစကားကိုပြောတတ်
သောဝိညာဉ် ဖြစ်ပါမည်ဟု ပြန်လျှောက်
သော်၊သင်သည်သွေးဆောင်၍နိုင်လိမ့်မည်၊ထို
၂၃ သို့သွား၍ပြုလော့ဟုမိန့်တော်မူ၏။- သို့ဖြစ်၍၊
ထာဝရဘုရားသည် မုသာစကားကို ပြောတတ်
သောဝိညာဉ်ကို မင်းကြီး၏ ပရောဖက် အ
ပေါင်းတို့၌ သွင်းတော်မူပြီ၊ မင်းကြီး၏ အမှုမှာ
အမင်္ဂလာစကားကိုပြောတော်မူပြီဟုဟောသော
၂၄ ၏။- ထိုအခါခေနာနာ၏သားဇေဒကိသည်ချဉ်း
ကပ်၍၊မိက္ခာ၏ပါးကိုပုတ်လျက်၊ထာဝရဘုရား
၏ ဝိညာဉ်တော်သည် သင်နှင့် ပြောဆက် ခြင်း
ငှါ၊အဘယ်လမ်းဖြင့်ငါ့မှထွက်တော်မူသနည်း
၂၅ ဟုမေးလျှင်- မိက္ခာက၊ သင်သည်ပုန်းရှောင်၍
နေခြင်းငှါ၊အတွင်းခန်းထဲသို့ဝင်သောနေ့၌သင်
၂၆ မြင်လိမ့်မည်ဟုဆို၏။-ဣသရေလရှင်ဘုရင်က၊
မိက္ခာကိုမြို့ဝန်မင်း၊အာမုန်ထံ၊သားတော်ယောရှ
၂၇ ထံသို့ယူသွား၍- ဤသူကိုထောင်ထဲမှာချောင်

ထားကြ။ ငါသည်ငြိမ်ဝပ်စွာပြန်၍မလာမှီတိုင်
အောင် ဆင်းရဲစွာ စား သောက်စေလို့၊ အမိန့်
တော် ရှိကြောင်း ကို ဆင့်ဆို လေဟု မိရင်၏။-
၂၈ မိက္ခာကလည်း၊ မင်းကြီးသည် ငြိမ်ဝပ်စွာပြန်
လာရလျှင်၊ ထာဝရဘုရားသည် ငါ့အားဖြင့် မိန့်
တော်မမူ။ ဖိုလူအပေါင်းတို့၊ နားထောင်ကြ
လော့ဟု ဆို၏။
၂၉ ထိုသို့ ဣသရေလရှင်ဘုရင်နှင့်ယုဒရှင်ဘုရင်
ယောရှဖတ် တို့သည် ဂိလဒ်ပြည် ရာမုတ် မြို့ သို့
၃၀ စစ်ချီကြ၏။- ဣသရေလရှင်ဘုရင်က၊ ငါသည်
ခြားနားသောအဆောင်ကိုဆောင်၍၊ စစ်ပွဲ ထဲသို့
ဝင်မည်။ မင်းကြီးမူကား၊မင်းမြောက်တန်ဆာ
ကိုဝတ်ဆင်ပါလေဟုယောရှဖတ်အားဆိုပြီး
မှ၊ ဣသရေလ ရှင်ဘုရင်သည် ခြားနားသောအ
၃၁ ဆောင်ကို ဆောင်လျှက် စစ်ပွဲထဲသို့ဝင်၏။- ရှုရိ
ရှင်ဘုရင်က၊ ဣသရေလရှင်ဘုရင်မှတပါး၊ အ
ခြား သော ပုဂ္ဂိုလ်ကြီး လူငယ် ကို မ တိုက်နှင့်ဟု၊ ရ
ထားစီးသူရဲ များကို အုပ်သော ဗိုလ်သုံးကျိပ်နှစ်
၃၂ ယောက်တို့ကိုမှာထားနှင့်သောကြောင့်-ရထား
စီး သူရဲ အုပ် ဗိုလ်မင်း တို့ သည် ယောရှဖတ်ကို
မြင်သောအခါ၊အကယ်စင်စစ်ထိုသူသည်ဣသ
ရေလရှင်ဘုရင်ဖြစ်လိမ့်မည်ဟုဆိုလျက်၊သူကို
တိုက်အံ့ သောငှါ၊ ထမ်းအုံကြ၍၊ ယောရှဖတ်
၃၃ သည်းကြွေးကြော်လေ၏။ ဣသရေလရှင်ဘုရင်
မဟုတ်ကြောင်းကိုရထားစီးသူရဲအုပ် ဗိုလ်မင်း
တို့သည်ရိပ်မိသောအခါ၊ မလိုက်ဘဲအခြားသို့
၃၄ ရှောင်သွားကြ၏။- လူတယောက်သည် မရွယ်
ဘဲလေးနှင့်ပစ်၍၊ ဣသရေလ ရှင်ဘုရင်ကို ချပ်
အကျႌအဆစ်ကြားမှာမှန်လေသော်၊ ငါ့ကိုစစ်
ပွဲထဲကထုတ်ဆောင်လော့၊ ငါနာသည်
၃၅ ဟု မိမိရထားတော်ထိန်းကိုဆို၏။- ထိုနေ့၌တိုး
၍တိုက်ကြ၏။ ရှင်ဘုရင်သည်ရှုရိလူတဖက်တ
ချက်၌၊ ရထားတော်ထဲမှာလူကိုမှီ၍ ထိုင်နေ၏။
ညဦးယံ၌ အသက်တော်ကုန်၏။ ထိခိုက်ရာ အ
၃၆ နာမှ အသွေး သည် ရထား ထဲသို့ ယို၏။- လူအ
ပေါင်းတို့၊ ကိုယ်နေသောမြို့ပြည်သို့ပြန်သွားကြ
လော့နေဝင်သောအခါတတပ်လုံးကိုကြွေးကြော်
၃၇ လေ၏။- ထိုသို့ ရှင်ဘုရင် သေ၍၊ ရှမာရိ မြို့ သို့
၃၈ ရောက်သဖြင့်၊သင်းဂြိုဟ်ခြင်းကိုခံရ၏။-ရထား
တော်နှင့်လက်နက်တော်ကို ရှမာရိမြို့ရေကန်၌
ဆေးသဖြင့်၊ ထာဝရ ဘုရား မိန့်တော် မူသော
စကားနှင့်အညီ၊ ခွေးတို့သည် အသွေးကိုလျက်
၃၉ ကြ၏။- အာဟပ်ပြုသောအမှုအရာကြွင်းသော
အမှုတို့နှင့်၊ တည်ဆောက်သော ဆင်စွယ်နန်း၊
ပြုသောမြို့တို့သည် ဣသရေလရာဇဝင်၌ရေး
၄၀ ထားလျက်ရှိ၏။- အာဟပ်သည် ဘိုးဘေးတို့
နှင့်အိပ်ပျော်၍၊သားတော်အာခဇိသည်ခမည်း
တော်အရာ၌နန်းထိုင်၏။
၄၁ ဣသရေလ ရှင်ဘုရင် အာဟပ် နန်းစံလေးနှစ်
တွင်အာသသား၊ယောရှဖတ်သည် အသက်သုံး
၄၂ ဆယ်ငါးနှစ်ရှိသော်ယုဒနိုင်ငံကို အစိုးရ၍-ယေ
ရုရှလင်မြို့၌ နှစ်ဆယ်ငါးနှစ် စိုးစံလေ၏။ မယ်
၄၃ တော်ကား၊ ရှိလဟိသမီး အဇုဘအမည်ရှိ၏။- ထို
မင်းသည်ခမည်းတော်အာသ လိုက်သောလမ်း
ကိုမလွှဲ၊ အကုန်အစင် လိုက်၍၊ ထာဝရဘုရား
ရှေ့တော်၌၊ဖြောင့်မတ်သောအကျင့်ကိုသာကျင့်
၏။သို့ရာတွင်၊မြင့်သောအရပ်တို့ကို မပယ်ရှား
သောကြောင့်၊ လူတို့သည်ထိုအရပ်တို့၌ယဇ်ပူ
၄၄ ဇော်၍၊ နံ့သာပေါင်းကို မီးရှို့ ကြ၏။- ယောရှ
ဖတ်မင်း သည် ဣသရေလ ရှင်ဘုရင် နှင့် စစ်မ
၄၅ တိုက်၊ မိဿဟာယ ဖွဲ့လေ၏။-ယောရှဖတ်ပြု
သော အမှုအရာ ကြွင်းသော အမှုတို့ နှင့် တန်ခိုး
ကြီးခြင်း၊ စစ်တိုက်ခြင်းအရာတို့သည်ယုဒရာဇ
၄၆ ဝင်၌ရေးထားလျက်ရှိ၏။- ခမည်းတော်အာသ
လက်ထက်၌ကျန်ကြွင်းသေးသော၊ ယောကျ်ား
အလိုသို့ လိုက်တတ်သော မိန်းမလျာ တို့ကို ပြည်
၄၇ တော်မှသုတ်သင်ပယ်ရှင်းလေ၏။- ထိုကာလအ
ဧဒုံပြည်၌ ရှင်ဘုရင်မရှိ။ ယုဒရှင်ဘုရင် ခန့်ထား
၄၈ သော မြို့ဝန်မင်း မိရင်ရ၏။- ယောရှဖတ် သည်
ဩဖိရပြည်သို့ စေလွှတ်၍၊ ရွှေကိုယူစေခြင်းငှါ
တာရှုသင်္ဘောတို့ကို ဧဇယုန်ဂါဗာမြို့မှာ တည်
၄၉ ၏။- အာဟပ်သား၊ အာခဇိက၊ ငါ့ကျွန်တို့ သည်
မင်းကြီး၊ကျွန်တို့နှင့် သင်္ဘောစီးပါစေဟု၊ယောရှ
ဖတ်၌အခွင့်တောင်း၍၊ယောရှဖတ်သည်အခွင့်
ပေး၏။ သို့သော်လည်း၊ သင်္ဘောတို့သည် ဧဇ
ယုန်ဂါဗာမြို့မှာကျိုးပဲ့သောကြောင့်၊ ဩဖိရမြို့
၅၀ သို့မသွားရ။-ယောရှဖတ်သည်ဘိုးဘေးတို့နှင့်
အိပ်ပျော်၍၊ သူတို့နှင့်အတူ အဘဒါဝိဒ်မြို့၌သင်း
ဂြိုဟ် ခြင်းကို ခံလေ၏။ သား တော် ယဟောရံ
သည် ခမည်းတော်အရာ၌နန်းထိုင်၏။
၅၁ ယုဒရှင်ဘုရင်ယောရှဖတ်နန်းစံဆယ့်ခုနစ်နှစ်
တွင်၊အာဟပ်သား၊အာခဇိသည် ရှမာရိမြို့၌မင်း
၅၂ ပြု၍၊ဣသရေလနိုင်ငံကို နှစ်နှစ်စိုးစံ၏။-ထိုမင်း
သည်ထာဝရဘုရားရှေ့တော်၌ ဒုစရိုက်ကိုပြု၍၊

ဗိုလ်ထိုက်သောသခင်၊ ဣသရေလ အမျိုးကိုဖြစ်
ဖွားစေသောနေဗတ်၏သားယေရောဗောင်လိုက်
၅၃ သော လမ်းသို့ လိုက်သေး၏။- ဗာလ ဘုရားကို
ဝတ်ပြုကိုးကွယ်၍၊ အစကျွန်ုပ်သော အမှုအတိုင်း၊
ဣသရေလ အမျိုး၏ ဘုရားသခင်ထာဝရဘုရား
၏အမျက်တော်ကိုနှိုးဆော်သတည်း။

ဓမ္မရာဇဝင်တတိယစောင်ပြီး၏။

---

# ဓမ္မရာဇဝင်စတုတ္ထစောင်။

## SECOND BOOK OF THE KINGS

---

၁

၁ အာဟပ်မင်းသေသောနောက်၊ မောဘပြည်
သည် ဣသရေလ ရှင်ဘုရင်ကို ပုန်ကန်လေ၏။-
၂ အာခဇိမင်းသည် ရှမာရိမြို့၌၊ အထက် အခန်း
ပြတင်းပေါက်မှ ကျ၍ နာနေ သော ကြောင့်၊ ငါ
သည်ဤအနာမှထမြောက်မည်လောဟု၊ ဧကြုန်
မြို့၏ဘုရား ဗာလဇေဗုပ်သို့သွား၍ မေးမြန်းကြ
လော့ဟုမှာထား၍၊ သံတမန်တို့ကို စေလွှတ်လေ၏။-
၃ ထာဝရဘုရား၏ကောင်းကင်တမန်သည်တိရှဘိ
မြို့သား ဧလိယ အား လည်း၊ ရှမာရိ ရှင် ဘုရင်
စေလွှတ်သော သံတမန်တို့ကို ကြိုဆိုခြင်းငှါထ
သွားလော့။ ဣသရေလပြည်၌ ဘုရားသခင်မရှိ
သောကြောင့်၊ ဧကြုန်မြို့၏ ဘုရား ဗာလဇေဗုပ်
၄ သို့သွား၍မေးမြန်းရသလော။-ထိုကြောင့်၊ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သင်သည်ထ
တက်သောသောလွန်ပေါ်ကနောက်တဖန်မဆင်း၊
ရ၊စင်စစ်သေရမည်ဟု၊သူတို့အားဆင့်ဆိုရမည်
အကြောင်း၊ မိန့်တော် မူသည်အတိုင်း၊ ဧလိယ
၅ သွားလေ၏။-သံတမန်တို့သည်ပြန်လာသောအ
ခါ၊ ရှင်ဘုရင်က၊ အဘယ်ကြောင့် လာပြန်သ
၆ ကြသနည်းဟုမေးလျှင်-သူတို့က၊လူတယောက်
သည်ကျွန်တော်တို့ကိုကြိုဆိုခြင်းငှါလာ၍၊သင်
တို့ကိုစေလွှတ်သောရှင်ဘုရင်ထံသို့ပြန်ကြ။ထာ
ဝရဘုရား မိန့်တော်မူသည် ကား၊ ဣသရေလ
ပြည်၌ဘုရားသခင်မရှိသောကြောင့်၊ ဧကြုန်မြို့
၏ဘုရားဗာလဇေဗုပ်သို့သွား၍ မေးမြန်းရသ
လော၊ထိုကြောင့်သင်သည်ယခုတက်သောသော
လွန်ပေါ်ကနောက်တဖန်မဆင်း၊ရ၊စင်စစ်သေရ
မည်ဟုပြောရမည်အကြောင်း၊မှာထားပါသည်
၇ ဟုလျှောက်ကြ၏။-ရှင်ဘုရင်ကလည်း၊ သင်တို့
ကို ကြိုဆို ခြင်း ငှါ လာ၍၊ ဤသို့ ပြော သော သူ
၈ ကား၊အဘယ်သို့သောသူနည်းဟုမေးလျှင်-သူ
တို့က၊ထိုသူသည်ကိုယ်၌အမွေးရှိ၍၊သားရေ
ခါးပန်းကိုစည်းသောသူဖြစ်ပါသည်ဟုလျှောက်
ကြသော်၊ထိုသူသည်တိရှဘိမြို့သားဧလိယဖြစ်
၉ လိမ့်မည်ဟု ရှင်ဘုရင် ဆိုလျက်- လူငါး ကျိပ်
အုပ်သောတပ်မှူးကိုစေလွှတ်၍၊ တပ်မှူးသည်
တောင်ပေါ်မှာ ထိုင်သော ဧလိယထံသို့ ရောက်
ပြီးလျှင်၊အိုဘုရားသခင်၏လူ၊သင်သည်ဆင်းရ
မည်အကြောင်း၊ ရှင်ဘုရင်အမိန့်တော်ရှိသည်
၁၀ ဟုဆို၏။-ဧလိယကလည်း၊ငါသည်ဘုရားသခင်
၏လူမှန်လျှင်၊ အဆင်းကောင်းကင်ကမီးကျ၍၊ သင်နှင့်
သင်၏လူ ငါးကျိပ်တို့ကိုလောင်ပါစေဟု၊ လူငါး
ကျိပ်အုပ်သော တပ်မှူးအား ဆိုသည် အတိုင်း
ကောင်းကင်ကမီးကျ၍သူနှင့်သူ၌ပါသောလူငါး
၁၁ ကျိပ်တို့ကို လောင်လေ၏။- တဖန် လူ ငါးကျိပ်
အုပ်သော တပ်မှူး တယောက်ကို ရှင်ဘုရင်စေ
လွှတ်၍၊ထိုတပ်မှူးက၊အိုဘုရားသခင်၏လူ၊သင်
သည်အလျင်အမြန်ဆင်းရမည်အကြောင်း၊ရှင်
၁၂ ဘုရင်အမိန့်တော် ရှိသည်ဟုဆို၏။- ဧလိယက
လည်း၊ ငါသည် ဘုရား သခင်၏ လူ မှန် လျှင်၊
ကောင်းကင်ကမီးကျ၍၊ သင်နှင့် သင်၏လူ ငါး
ကျိပ်တို့ကိုလောင်ပါစေဟု၊သူတို့အားဆိုသည်
အတိုင်း၊ ဘုရား သခင်၏ မီးသည် ကောင်းကင်
ကကျ၍၊ သူနှင့်သူ၌ ပါသောလူ ငါး ကျိပ်တို့ကို
၁၃ လောင် လေ ၏။- တဖန်.လူ ငါးကျိပ် အုပ်သော

၁၃ တဖန်ငါးကျိပ်မှူးကို ရှင်ဘုရင်စေလွှတ်သဖြင့်၊ ထို
တပ်မှူးသည်တက်၍၊ ဧလိယရှေ့မှာဒူးထောက်
လျက်၊ ဘိုဘုရားသခင်၏လူ၊ ကျွန်တော်အသက်
နှင့်ကိုယ်တော်ကျွန် ဤလူငါးကျိပ်တို့၏အသက်
၁၄ ကို နှမြောတော်မူပါ။- ကောင်းကင်က မီးကျ
၍၊ အခြားသောတပ်မှူးနှစ်ယောက်နှင့်၊ သူတို့၌
ပါသော လူတရာကို လောင်သော်လည်း၊ ကျွန်
တော်အသက်ကိုနှမြောတော် မူပါဟုတောင်း၏
၁၅ ပန်လေ၏။-ထာဝရဘုရား၏ကောင်းကင်တမန်
ကလည်း၊ သူနှင့်အတူဆင်းသွားလော့၊ သူကို
မကြောက်နှင့်ဟု ဧလိယအား ဆိုသည်အတိုင်း၊
ဧလိယသည်ထ၍၊ ရှင်ဘုရင်ထံသို့ရောက်လျှင်-
၁၆ ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်သည်
ဧကြုန်မြို့၏ဘုရားဗာလဇေဗုပ်၌မေးမြန်းခြင်း
ငှါ၊ အထက်ကြောင့်သံတမန်တို့ကို စေလွှတ်သ
နည်း။ မေးမြန်းစရာဘို့၊ ဣသရေလပြည်၌ဘုရား
သခင် မရှိသောကြောင့်၊ ထိုသို့ပြုသလော၊ သို့
ဖြစ်၍၊ သင်သည်ယခုတက်သော သာလွန်ပေါ်
ကနေ၍တဖန် မဆင်းရ၊ စင်စစ် သေရမည်ဟု
၁၇ မိန့်တော် မူကြောင်းကိုဆင့်ဆို၏။- ဧလိယဆင့်
ဆိုသောထာဝရဘုရား၏ စကားတော်အတိုင်း၊
ရှင်ဘုရင်သေ၍၊ သားတော်မရှိသောကြောင့်၊
ညီတော် ယောရံသည် ယုဒ ရှင်ဘုရင် ယောရှ
ဖတ်သားယဟောရံနန်းစံ နှစ်နှစ်တွင် နန်းထိုင်
၁၈ လေ၏။- အာခဇိပြုမူသောအမှုအရာ ကြွင်းသေ
သမျှတို့သည်၊ ဣသရေလ ရာဇဝင်၌ ရေးထား
လျက်ရှိ၏။

၂

၁ ထာဝရဘုရားသည် ဧလိယကိုလေဘွေအား
ဖြင့်၊ ကောင်းကင်သို့ ချီယူတော် မူမှန် နီးသော
အခါ၊ ဧလိယသည်ဧလိရှဲနှင့်အတူဂိလဂါလမြို့
၂ သို့သွား၏။-ဧလိယကလည်း၊ ဤအရပ်၌နေရစ်
ပါလော့၊ ထာဝရဘုရားသည် ငါ့ကိုဗေသလမြို့
သို့စေလွှတ်တော်မူသည်ဟု ဧလိရှဲအား ဆိုလျှင်၊
ဧလိရှဲကထာဝရဘုရားအသက်၊ကိုယ်တော်အ
သက်ရှင်တော်မူသည်အတိုင်း၊ ကိုယ်တော်နှင့်
အကျွန်ုပ်မကွာရပါဟုပြန်ပြောလျက်၊ထိုသူနှစ်
၃ ယောက်တို့သည်ဗေသလမြို့သို့ သွားကြ၏။-ထို
မြို့၌ရှိသောပရောဖက်အမျိုးသားတို့သည်၊ဧလိ
ရှဲကိုခရီးဦးကြိုပြုအံ့သောငှါထွက်လာ၍၊ ထာ
ဝရဘုရားသည် ကိုယ်တော် သခင်ကို၊ ကိုယ်
တော်ခေါင်းမှထက်ချီတော်သွားတော် မူမည်ကို
သိတော်မူသလောဟု မေးလျှင်၊ ထုတ်ဆဲ့၊ ငါသိ
၄ ၏။ ထိတ်ဆိတ်စွာနေကြပါဟုပြောဆို၏။- ဧလိ
ယက လည်း၊ ဧလိရှဲ၊ ဤအရပ် ၌ နေရစ်ပါ
လော့၊ ထာဝရဘုရားသည်ငါ့ကိုယေရိခေါမြို့သို့
စေလွှတ် တော် မူသည်ဟု ဆိုလျှင်၊ ဧလိရှဲ က၊
ထာဝရဘုရားအသက်၊ကိုယ်တော်အသက်ရှင်
တော်မူသည်အတိုင်း၊ ကိုယ်တော်နှင့်အကျွန်ုပ်
မကွာရပါဟုပြန်ပြောလျက်၊ ထိုသူနှစ်ယောက်
၅ တို့သည်ယေရိခေါမြို့သို့ သွားကြ၏။- ထိုမြို့၌ရှိ
သော ပရောဖက် အမျိုးသား တို့သည် ဧလိရှဲထံ
သို့လာ၍၊ထာဝရဘုရားသည်ကိုယ်တော်သခင်
ကိုကိုယ်တော်ခေါင်းမှ၊ ယနေ့ချီတ်သွားတော်မူ
မည် ကိုသိ တော် မူသလောဟု မေးလျှင်၊ ထုတ်
ကဲ့၊ငါသိ၏၊ ထိတ်ဆိတ်စွာနေကြပါဟုပြောဆို
၆ ၏။-ဧလိယကလည်း၊ဤအရပ်၌နေရစ်ပါလော့၊
ထာဝရ ဘုရား သည် ငါ့ကို ယော်ဒန် မြစ်သို့ စေ
လွှတ်တော်မူသည်ဟု ဆိုလျှင်၊ ဧလိရှဲက၊ ထာ
ဝရ ဘုရား အ သက်၊ ကိုယ် တော် အသက် ရှင်
တော်မူသည်အတိုင်း၊ ကိုယ်တော်နှင့်အကျွန်ုပ်
မကွာရပါဟုပြန်ပြောလျက်၊ ထိုသူနှစ်ယောက်
၇ တို့သည် အတူ သွားကြ၏။- ပရောဖက် အမျိုး
သားငါးကျိပ်တို့သည်၊ အဝေးကကြည့်ရှုခြင်း
ငှါ သွား၍ ရပ်နေ ကြ၏။ ထိုသူ နှစ်ယောက် တို့
၈ သည်ယော်ဒန် မြစ်နားမှာရပ်နေကြ၏။-ဧလိယ
သည်မိမိဝတ်လုံကိုယူ၍လိပ်ပြီးမှ၊ ရေကို ရိုက်
သဖြင့်၊ ရေသည် တဖက်တချက်ကွဲ၍၊ ထိုသူနှစ်
ယောက်တို့သည် မြေပေါ်မှာ ရှောက်သွား ကြ
၉ ၏။- မြစ်တဖက်သို့ ရောက်သော အခါ၊ ဧလိယ
က၊ သင်နှင့်ငါမကွာမှီ၊ ငါ၌တစုံတခုသော ဆုကို
တောင်းလော့ဟု ဧလိရှဲအား ဆိုလျှင်၊ ဧလိရှဲက၊
ကိုယ်တော်ဝိညာဉ်နှစ်ဆသောအဖို့ကိုအကျွန်ုပ်
၁၀ အပေါ်မှာရှိပါစေသောဟုတောင်းသော်- ဧလိ
ယကသင်သည် ရခဲသော ဆုကိုတောင်း၏။ သင်
နှင့် ငါကွာသည်ကို မြင်လျှင်ရမည်၊ သို့မဟုတ်၊
၁၁ မရဟုပြောဆို၏။- ထိုသို့ချီတ်ဆက်လျက် သွား
ကြစဉ်တွင်၊ မီးရထားနှင့်မီးမြင်းတို့သည်ပေါ်
လာ၍၊ ထိုသူနှစ်ယောက်တို့ကိုခွဲ ခွာသဖြင့်၊ ဧလိ
ယသည်လေဘွေအားဖြင့်ကောင်းကင်သို့တက်
၁၂ လေ၏။-ဧလိရှဲသည်ကြည့်မြင်လျှင်အဘ၊ အဘ
ဝ၊ ဣသရေလ ရ ထား၊ ဣသရေလ မြင်း ပါတ
ကား၊ဟုဟစ်ခေါ်လေည်း၊ နောက်တဖန် ဧလိယ
ကိုမမြင်ရ၊ မိမိအဝတ်ကို ကိုင်၍ နှစ်ပိုင်းဆွဲ၍

၁၃ လေ၏။- အောက်သို့ကျသော ဧလိယဝတ်လုံကို
ကောက်၍ ပြန်လေ၏။ ယော်ဒန်မြစ်နားမှာ ရပ်
၁၄ ၍- ရေကို ဝတ်လုံနှင့် ရိုက်လျှက်၊ ဧလိယ ကိုး
ကွယ်သော ဘုရားသခင် ထာဝရဘုရားသည် အ
ဘယ်မှာ ရှိတော်မူသနည်းဟူ၍ တဖန်ရိုက်သော
အခါ၊ ရေသည် တဖက်တချက် ကွဲသဖြင့်၊ ဧလိရှဲ
၁၅ သည် ကူးသွား၏။- ယေရိခေါမြို့မှာ ကြည့်ရှု
သော ပရောဖက် အမျိုးသားတို့သည် ဧလိရှဲကို
မြင်လျှင်၊ ဧလိယ၏ ဝိညာဉ်သည် ဧလိရှဲ အပေါ်
မှာ ကျိန်းဝပ်သည်ဟု ဆိုလျှက်၊ ခရီးဦးကြို ပြုအံ့
သောငှါ သွား၍၊ သူ့ရှေ့၌ မြေပေါ်မှာ ပြပ်ဝပ်ကြ
၁၆ ၏။- သူတို့ကလည်း၊ ကိုယ်တော် ကျွန်တို့၌ ခွန်
အားကြီးသော သူငါးကျိပ် ရှိပါ၏။ သူတို့သည်
သွား၍ ကိုယ်တော်၏ သခင်ကို ရှာမည် အ
ကြောင်း၊ အခွင့်ပေးတော်မူပါ။ ထာဝရဘုရား၏
ဝိညာဉ်တော်သည် သူကို ချီယူ၍၊ တစုံတခုသော
တောင်ပေါ်၌ ဖြစ်စေ၊ ချိုင့်ထဲသို့ ဖြစ်စေ၊ ချ
ကောင်း ချတော်မူလိမ့်မည်ဟု အခွင့်တောင်း
လျှင်၊ မစေလွှတ်ကြနှင့်ဟု ဧလိရှဲသည် မြစ်တား
၁၇ သော်လည်း၊- သူတို့သည် ဧလိရှဲ မိတ်အားလျော့
သည်တိုင်အောင် အလွန်တောင်းပန်သော အခါ၊
စေလွှတ်ကြဟု ဆို၏။ သူတို့သည် လူငါးကျိပ်ကို
စေလွှတ်သဖြင့်၊ သုံးရက်ပတ်လုံး ရှာ၍ မတွေ့
၁၈ နိုင်ကြ။- ဧလိရှဲသည် ယေရိခေါမြို့မှာ နေသေး
သည်ဖြစ်၍၊ သူတို့သည် ပြန်လာသော အခါ၊ မ
သွားကြနှင့်ဟု ငါမြစ်တားသည် မဟုတ်လော
ဟု ဆို၏။

၁၉ ထိုမြို့သားတို့က၊ ကိုယ်တော်မြင်တော်မူသည်
အတိုင်း၊ ဤမြို့ကည်ရာ အရပ်သည် သာယာပါ
၏။ သို့ရာတွင်၊ ရေမကောင်း၊ မြေလည်း ကိုယ်ဝန်
ပျက်စေတတ်ပါသည်ဟု ဧလိရှဲ အား လျှောက်
၂၀ ကြလျှင်- ဧလိရှဲက၊ အိုးသစ်တလုံးကို ဆား
ထည့်၍ ယူခဲ့ကြလော့ဟု၊ ဆိုသည်အတိုင်း ယူ
၂၁ ခဲ့ကြ၏။- ဧလိရှဲသည် စမ်းရေတွင်းသို့ သွား၍၊
ဆားကို ခတ်လျှက် ထာဝရဘုရား မိန့်တော်မူ
သည်ကား၊ ဤရေကို ငါသန့်စေ၏။ နောက်တဖန်
သေစေမည်အကြောင်း၊ ကိုယ်ဝန်ပျက်စေမည်
၂၂ အကြောင်းကို မပြုရဟု- ဧလိရှဲ ဆင့်ဆိုသော အ
မိန့်တော်အတိုင်း၊ ထိုရေသည် ယနေ့တိုင်အောင်
သန့်လေ၏။

၂၃ ထိုမြို့မှ ဗေသလမြို့သို့ ပြန်၍ ခရီးသွား စဉ်
တွင်၊ လုလင်ပျိုတို့သည် မြို့ထဲက ထွက်၍၊ ယော
ဦးပြည်း၊ တက်သွားလော့၊ ဦးပြည်း၊ တက်ဦး၊
၂၄ လော့ဟု ကဲ့ရဲ့ကြ၏။- ဧလိရှဲသည် လှည့်ကြည့်
ပြီးလျှင်၊ ထာဝရဘုရား၏ အခွင့်နှင့် ကျိန်ဆိုသ
ဖြင့်၊ ဝံမနှစ်ကောင်တို့သည် တောထဲက ထွက်၍၊
လုလင်ပျို လေးကျိပ် နှစ်ယောက်တို့ကို ကိုက်
၂၅ သတ်လေ၏။- ထိုမြို့မှ ကရမေလတောင်သို့ ၎င်း၊
ထိုတောင်မှ ရှမာရိမြို့သို့ ၎င်း အစဉ်အတိုင်း
သွား၏။

## ၃

၁ ယုဒရှင်ဘုရင် ယောရှဖတ် နန်းစံ အဆယ့်ရှစ်နှစ်
တွင်၊ အာဟပ်သား ယောရံသည် ရှမာရိမြို့၌ မင်း
၂ ပြု၍၊ ဣသရေလနိုင်ငံကို စိုးစံ၏။- ထိုမင်းသည်
ထာဝရဘုရား ရှေ့တော်၌ ဒုစရိုက်ကို ပြု၏။ သို့ရာ
တွင်၊ မိဘကဲ့သို့ မပြုခဲ့။ မည်းတော်လုပ်သော ဗာ
၃ လရုပ်တုကို ပယ်ရှား၏။- သို့သော်လည်း၊ ဣသ
ရေလ အမျိုးကို ပြစ်မှားစေသော နေဗတ်၏သား
ယေရောဗောင် ပြုသော ဒုစရိုက် အပြစ်ကို မ
ရှောင်၊ မှီဝဲ၏။

၄ မောဘမင်းကြီး မေရှာသည် သိုးထိန်းကြီးဖြစ်
၍၊ ဣသရေလရှင်ဘုရင်အား သိုးသငယ်တသိန်း
နှင့် အမွေးပါသော သိုးထီး တသိန်းကို ဆက်ရ
၅ ၏။- အာဟပ် သေသောအခါ၊ မောဘမင်းကြီး
သည် ဣသရေလ ရှင်ဘုရင်ကို ပုန်ကန်လေ၏။-
၆ ထိုအခါ ယောရံမင်းကြီးသည် ရှမာရိမြို့ထဲက
ထွက်၍၊ ဣသရေလ အမျိုးသားအပေါင်းတို့ကို
၇ စာရင်းယူ၏။- ယုဒရှင်ဘုရင် ယောရှဖတ်ထံသို့
လူကိုစေလွှတ်၍၊ မောဘမင်းကြီးသည် ငါကိုပုန်
ကန်ပြီ၊ မောဘပြည်ကို စစ်တိုက်ခြင်းငှါ ငါနှင့်
အတူ လိုက်မည်လောဟု မေးလျှင်၊ ယောရှဖတ်
က၊ ငါလိုက်မည်၊ ငါသည် မင်းကြီးကဲ့သို့ ဖြစ်၏။
ငါလူတို့သည် မင်းကြီး၏ လူကဲ့သို့ ၎င်း၊ ငါမြင်းတို့
သည် မင်းကြီး၏ မြင်းကဲ့သို့ ၎င်း ဖြစ်ကြသည်ဟု
၈ ပြန်ပြော၏။- အဘယ်လမ်းဖြင့် စစ်ချီရမည်နည်း
ဟု မေးသော်၊ ဧဒုံတောလမ်းဖြင့် ချီရမည်ဟု ပြန်
၉ ပြော၏။- ထိုသို့ ဣသရေလ ရှင်ဘုရင်၊ ယုဒရှင်
ဘုရင်၊ ဧဒုံ ရှင်ဘုရင်တို့သည် ပိုင်း၍ ခုနှစ်ရက်
ခရီးသွားကြ၏။ ဗိုလ်ခြေများ သောက်စရာ၊ ပါ
၁၀ သော တိရိစ္ဆာန်များ သောက်စရာရေမရှိ။- ဣ
သရေလရှင်ဘုရင်က၊ ခက်လှပြီ၊ ထာဝရဘုရား
သည် ဤရှင်ဘုရင် သုံးပါးတို့ကို မောဘလူတို့
လက်သို့ အပ်ခြင်းငှါ၊ စုဝေးစေတော်မူသည်တ
၁၁ ကားဟု ဆို၏။- ယောရှဖတ်ကလည်း၊ ထာဝရ

ဘုရား၌ မေးလျှောက်မည်အကြောင်း။ ထာဝရ
ဘုရား၏ ပရောဖက် တယောက်မျှ မရှိသလော
ဟု မေးလျှင်၊ ဣသရေလ ရှင်ဘုရင်၏ ကျွန်တ
ယောက်က၊ ဧလိယ လက်ထောက်ရှာဖတ်သား၊
၁၂ ဧလိရှဲ ရှိပါ၏ဟု လျှောက်သော်၊- ယောရှဖတ်
က၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်သူ
၌ရှိတော်မူသည်ဟု ဆိုလျက်၊ ရှင်ဘုရင်သုံးပါး
၁၃ တို့သည် ဧလိရှဲထံသို့သွားကြ၏။- ဧလိရှဲသည်
ဣသရေလရှင်ဘုရင်အားလည်း။ ငါသည်သင်
နှင့်အဘယ်သို့ဆိုင်သနည်း။ သင်၏အဘ၏ ပရော
ဖက်၊ သင့်အမိ၏ပရောဖက်တို့ထံသို့ သွားလော့
ဟုဆိုလျှင်၊ ဣသရေလရှင်ဘုရင်က၊ မဆိုပါနှင့်။
ထာဝရဘုရားသည် ဤရှင်ဘုရင် သုံးပါးတို့ကို
မောဘ လူတို့ လက်သို့ အပ်ခြင်းငှါ၊ စုဝေး စေ
၁၄ တော်မူသည် တကားဟု ဆိုသော်- ဧလိရှဲ က၊
ငါ ကိုးကွယ်သော ကောင်းကင် ဗိုလ်ခြေ အရှင်
ထာဝရဘုရား အသက်ရှင်တော်မူသည့်အတိုင်း။
အကယ်၍ယုဒရှင်ဘုရင်ယောရှဖတ်၏မျက်နှာ
ကို ငါမထောက်လျှင်၊ သင့်ကိုငါမကြည့် မမြင်
၁၅ ထိုး-စောင်းသမားကိုခေါ်ခဲ့ဟုဆို၍၊စောင်းသ
မားသည်တီးသောအခါ၊ထာဝရဘုရား၏လက်
၁၆ တော်သည်ဧလိရှဲအပေါ်သို့ရောက်၍- ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ဤချိုင့်ပတ်ထည်
၁၇ ၌ အယ်လေါင်းတို့ကိုလုပ်ကြလော့။- အကြောင်း
မူကား၊ သင်တို့နှင့် တိရစ္ဆာန်တို့သည် သောက်
စရာဘို့ လေမသာ၊ မိုဃ်းမရွာဘဲ၊ ဤချိုင့်သည်
၁၈ ရေနှင့် ပြည့်လိမ့်မည်။- ထိုအမှုသည် ထာဝရ
ဘုရား ရှေ့တော်၌သာမညအမှုဖြစ်သေး၏။ မောဘ
လူ တို့ကိုလည်း၊ သင်တို့လက်သို့ အပ်တော်မူ
၁၉ မည်။- သင်တို့သည်ခိုင်ခံ့၊ ထူးဆန်းသော မြို့ရိုး
သမျှ တို့ကို လုပ် ကြံ ကြလိမ့် မည်။ အသုံး ဝင်
သော သစ်ပင်ရှိသမျှတို့ကို ခုတ်လှဲ ကြလိမ့်
မည်။ ရေတွင်းရှိသမျှတို့ကို မြေဖို့ ကြလိမ့်မည်၊
ကောင်းသောမြေကွက်ရှိသမျှတို့ကို ကျောက်ခဲ
၂၀ နှင့်ဖျက်ကြ လိမ့်မည်ဟု မိန့်တော်မူ၏။- နံနက်
အချိန်၊ ဘောဇဉ်ပူဇော်သကာကိုပူဇော်သော
အခါ၊ ရေသည်ဧဒုံလမ်းဖြင့်လာ၍ တပြည်လုံး
ကိုလွှမ်းလေ၏။
၂၁ ရှင်ဘုရင်တို့သည် စစ်ချီ၍ လာကြောင်း ကို
မောဘပြည်သားအပေါင်းတို့သည် ကြားသော
အခါ၊ လက်နက်ဆောင်သောသူ အကြီးအငယ်
ရှိသမျှတို့ကို စုဝေးစေ၍၊ ပြည်စွန်းနားမှာ ထပ်
၂၂ ချကြ၏။- နံနက်စောစောထသောအခါ၊ နေသော်
မှာနေရောင်ထင်၍၊ ပြည်တစ်ဖက်၌ ရေသည် အ
သွေးကဲ့သို့နီသည်ကို မောဘပြည်သားတို့သည်
၂၃ မြင်ကြလျှင်- အသွေးဖြစ်၏။ စင်စစ်ရှင်ဘုရင်တို့
သည် တယောက်ကိုတယောက် လုပ်ကြံ၍သေ
ကြပြီ၊ သို့ဖြစ်၍၊ မောဘပြည်သားတို့၊ လုယူကြ
၂၄ လော့ဟု ဆိုကြ၏။- ဣသရေလ တပ်သို့ ရောက်
သောအခါ၊ ဣသရေလ လူ တို့ထ၍၊ မော
ဘပြည်သား တို့ကို လိုက် သဖြင့်၊ သူ တို့ သည်
ပြေးကြ၏။ ဣသရေလလူတို့သည် မောဘပြည်
၂၅ ထဲသို့တိုင်အောင်လိုက်၍ လုပ်ကြံကြ၏။- မြို့တို့
ကိုဖြိုဖျက်ကြ၏။ ကောင်းသောမြေကွက်ရှိသမျှ
တို့အပေါ်မှာ၊ လူအပေါင်းတို့သည် ကျောက်ခဲ
ပစ်ချ၍ ဖုံးလွှမ်းကြ၏။ ရေတွင်းရှိ သမျှ တို့ကို
လည်းမြေဖို့၍၊ အသုံးဝင်သော သစ်ပင်ရှိသမျှ
တို့ကိုခုတ်လှဲကြ၏။ ကိရဟာရက်မြို့၌သာ မြို့
ရိုးကိုချန်ထား၊ ရာတွင်၊ လောက်လွှဲသမားတို့သည်
၂၆ ဝိုင်း၍ ပစ် ကြ၏။- မောဘ မင်း ကြီး သည် စစ်
တိုက် မခံနိုင်သည်ကို သိသောအခါ၊ ထားဆိုင်
သောသူခုနစ်ရာကိုခေါ်၍၊ ဧဒုံရှင်ဘုရင်၏တပ်
ကိုဖျက်မည်ဟု၊ အားထုတ်သော်လည်း မဖျက်
၂၇ နိုင်။- နောက်မှ မိမိ ကိုယ်စား၊ နန်းထိုင် လိုက်
သောသားဦးကိုယူ၍၊ မြို့ရိုးပေါ်မှာမီးရှို့ရာယဇ်
ပြုလေ၏။ ဣသရေလ အမျိုးသားတို့သည်သူတ
ပါး အမျက်ထွက်ခြင်းကိုခံရသောကြောင့်၊ ထို
ပြည်ကိုထား၍ကိုယ်ပြည်သို့ပြန်သွားကြ၏။

၄

၁ ပရောဖက် အမျိုးသား၏ မယား တယောက်
သည်ဧလိရှဲထံသို့လာ၍၊ကိုယ်တော်ကျွန်၊ကျွန်
မ၏ခင်ပွန်းသေပါပြီ၊ကိုယ်တော်ကျွန်သည်ထာ
ဝရဘုရားကိုရိုသေသောသူဖြစ်သည်ကို၊ကိုယ်
တော်သိတော်မူ၏။ ယခုမှာကြွေးရှင်သည်ကျွန်
မ၏သား၊ နှစ်ယောက်ကို ကျွန်ခံစေခြင်းငှါ ထာ
၂ ပ် ပြီဟု ကျွေးကြော်လေ၏။- ဧလိရှဲကလည်း။
သင့်အဘို့အဘယ်သို့ငါပြုရမည်နည်း။ သင့်အိမ်
၌ အဘယ် ဥစ္စာ ရှိသနည်းဟု မေးလျှင်၊ ကိုယ်
တော်ကျွန်မ အိမ်၌ ဆီအိုး တလုံးမှ တပါး၊ အ
၃ ဘယ်ဥစ္စာမျှမရှိပါဟုပြောဆိုသော်- ဧလိရှဲက
သွားလော့၊အိမ်နီးချင်းရှိသမျှတို့တွင်လပ်သော
အိုးတို့ကို ငှါးယူလော့။ များစွာသော အိုးတို့ကို
၄ ငှါးယူလော့။-ကိုယ်အိမ်သို့ရောက်သောအခါ၊
သား တို့ကို ခေါ်၍၊ တံခါးကိုပိတ်ပြီးမှ၊ ငှါးယူ

သောအိုးရှားထဲသို့ဆီကိုအပြည့်သောင်း၍
၅ ထားလော့ဟုမိန့်တော်မူသည်အတိုင်း၊- ထိုမိန်းမသည်
သွား၍၊သားတို့သည်အိုးရှားကိုယူခဲ့ပြီးမှ၊မိန်း
မသည်သားတို့နှင့်အတူအိမ်ထဲသို့ဝင်၍၊တံခါး
၆ ကိုပိတ်လျက် ဆီကိုသောင်းလေ၏။- အိုးရှားတို့
ဆီပြည့်သောအခါ၊အိုးတလုံးကိုယူခဲ့ဦးဟုသား
အားဆိုလျှင်၊အိုးထပ်မရှိပါဟုပြန်ပြောသော်၊
၇ ဆီသည် တန့်လျက်နေ၏။ ထိုမိန်းမသည် လာ၍
ဘုရားသခင်၏လူကိုကြားပြောလျှင်၊ သူက ထို
ဆီကိုသွား၍ ရောင်း၍ ကြွေးကို ဆပ်
လော့၊ကြွင်းသောဆီကိုအမှီပြု၍၊သင်နှင့်သား
တို့သည်အသက်မွေးကြလော့ဟုဆို၏။
၈ တနေ့သ၌၊ ဧလိရှဲသည် ရှုနင်မြို့သို့ သွားရာ
တွင်၊ထိုမြို့၌ထင်ရှားသောမိန်းမတယောက်သည်
ဧလိရှဲကိုကျွေးခြင်းငှါခေါ်ပင့်လေ၏။ နောက်မှ
ထိုလမ်းသို့သွားသောအခါခါ၊ ကျွေးခြင်းကိုခံ
၉ ထဲ့သောငှါ၊ ထိုအိမ်သို့ ဝင်တတ်၏။- မိန်းမက
သည်း၊ ငါတို့နေရာလမ်းဖြင့် အစဉ် သွားလာ
သောဤသူသည် ဘုရားသခင်၏သန့်ရှင်းသူ ဖြစ်
၁၀ သည်ကို ကျွန်ုပ်ရိပ်မိ၏။- ဝင်းရိုး အပေါ်မှာအ
ခန်းငယ်တခုကိုလုပ်ကြကုန်အံ့၊ သူအဖို့စုတင်၊
စားပွဲ၊ထိုင်ခုံ၊မီးခုံတို့ကိုထားကြကုန်အံ့၊သို့ဖြစ်
၍၊သူသည်ငါတို့ဆီသို့ရောက်သောအခါ၊ထိုအ
ခန်းထဲသို့ ဝင်လိမ့်မည်ဟု၊ မိမိခင်ပွန်းအားဆို
၁၁ ၏။-တနေ့သ၌၊ဧလိရှဲသည်ရောက်သဖြင့်၊ထိုအ
၁၂ ခန်းထဲသို့ဝင်၍အိပ်နေ၏။-ထိုရှုနင်မြို့သူမိန်းမကို
ခေါ်လော့ဟု၊ မိမိကျွန် ဂေဟာဇိအား ဆိုသည်
အတိုင်းခေါ်၍၊ မိန်းမ သည် ဧလိရှဲ ရှေ့မှာရပ်နေ
၁၃ ၏။-ဧလိရှဲက၊သင်သည်ငါတို့အဖို့ဤမျှသောတ
ထပ်ကျွေးမွေးစုသည်အတွက်၊သင့်အဖို့အဘယ်
သို့ ပြုရမည်နည်း။ သင့်အဖို့ ရှင်ဘုရင်ထံ၊ ဗိုလ်
ချုပ်မင်းထံ၌ ငါပြောရမည် လောဟု၊ဂေဟာဇိ
မေးမည် အကြောင်း မိန့်သော်၊ မိန်းမက၊ ကျွန်မ
သည်ကိုယ်အဆွေ အမျိုးတို့တွင်၊ နေပါ ဦးမည်
၁၄ ဟုပြန်ပြော၏။- ဧလိရှဲကလည်း၊ ဤမိန်းမအဖို့အ
ဘယ်သို့ ပြုစရာရှိသနည်းဟု မေးပြန်လျှင်၊ ဂေ
ဟာဇိက၊ ဤမိန်းမ၌ သားယောက်ျား မရှိပါ။ သူ့ ခင်ပွန်း
၁၅ သည်းအိုလှပြီဟုဆိုသော်၊-တဖန်ခေါ်ဦးလော့
ဟု ဆိုသည်အတိုင်း ခေါ်၍၊ မိန်းမသည် တံခါးဝ
၁၆ မှာရပ်နေ၏။- ဧလိရှဲကလည်း၊ သင်သည်နောင်
နှစ်အချိန် အရွယ် ရောက်သောအခါ၊ သားကိုဝယ်
ထမ်း ရလိမ့်မည်ဟု ဆိုလျှင်၊ မိန်းမက ဆို အရှင်၊
ဘုရားသခင်၏လူ၊ကိုယ်တော်ကျွန်မကိုမုသာမ
၁၇ သုံးပါနှင့်ဟုပြန်ပြော၏။- ထိုနောက်၊မိန်းမသည်
ပဋိသန္ဓေ ယူ၍၊ ဧလိရှဲ မှိန်းမှတ်သော အချိန်
အရွယ်ရောက်သောအခါ၊သားကိုဖွားမြင်လေ၏။
၁၈ ထိုသား သည် ကြီးပွား ပြီးမှ၊ တနေ့ သ၌ စပါး
၁၉ ရိတ်သော သူတို့ရှိရာ၊ မိမိအဘထံသို့ သွား၍-ငါ
သည်ခေါင်းနာ၏၊ခေါင်းနာ၏ဟု အဘအားပြော
ဆိုလျှင်၊ အဘက၊ သူငယ်ကို အမိထံသို့ယူသွား
၂၀ လော့ဟု ကျွန်အားပြော၏။-ယူ၍ အမိထံသို့
ယူသွား၍၊ သူငယ်သည် အမိရင်ခွင်၌ ထိုင်၍၊
၂၁ မွန်းတည့်အချိန်ရှိပြီးမှသေ၏။-အမိသည်မြို့မှ
ပေါ်သို့တက်၍၊အလောင်းကိုဘုရားသခင်လူ၏
ခုတင်ပေါ်မှာ ထားပြီးလျှင်၊ တံခါးကိုပိတ်ခဲ့၍
၂၂ သွားလေ၏။- ခင်ပွန်းကိုလည်းခေါ်၍၊ ကျွန်မ
သည် ဘုရားသခင်၏ လူထံသို့ပြေး၍၊ တဖန်ပြန်
လာဦးမည်၊ လူလင်တယောက်နှင့် မြည်းတကောင်ကို
၂၃ လွှတ်လိုက်ပါဟု ဆိုလျှင်- ခင်ပွန်းက၊ အဘယ်
ကြောင့် ယနေ့ သွားချင်သနည်း။ လဆန်းနေ့ မ
ဟုတ်၊ ဥပုသ်နေ့ လည်းမဟုတ်ဟုဆိုသော်၊ မိန်း
၂၄ မ၊ ကောင်းပါလိမ့်မည်ဟုပြန်ပြော၏။- မြည်းကို
ကုန်းနှီးတင်ပြီးမှ၊ကျွန်ကိုခေါ်၍နှင်သွားလော့။
ငါမပြောလျှင်ကြောင့်အလျှော့မနှေးစေနှင့်ဟု၊
၂၅ ကျွန်အား မှာထားသဖြင့်- ခရီးသွား၍ ဘုရား
သခင်၏လူရှိရာ၊ကရမေလတောင်ပေါ်သို့ရောက်
သည်ကို၊ဘုရားသခင်၏ လူသည်အဝေးကမြင်
သောအခါ၊မိမိကျွန်ဂေဟာဇိကိုခေါ်၍၊ရှုနင်မြို့
၂၆ သူမိန်းမလာ၏။-သင်ပြေး၍ခရီးဦးကြိုပြုပြီးလျှင်၊
ကိုယ်တိုင် မာ၏လော၊ ခင်ပွန်းမာ၏လော၊ သူ
ငယ်မာ၏လောဟု မေးမြန်း၍မေးစေသော်၊ မိန်း
၂၇ မ မာပါ၏ဟု ဆို၏။- ဘုရား သခင် ၏ လူရှိရာ
တောင်ပေါ်သို့ရောက်သောအခါ၊ သူ၏ခြေတို့ကို
ဖက်လေ၏။ ဂေဟာဇိ သည် ဆီး တား ခြင်းငှါ
ချဉ်းကပ်လျှင်၊ ဘုရားသခင်၏လူက၊သူ့ကိုမဆီး
တားနှင့်။သူသည်စိတ်ညှိုးငယ်ခြင်းရှိ၏။ ထိုအ
ကြောင်းကိုထာဝရဘုရားသည်ငါ့အားမပြ၊မှတ်
၂၈ ထားတော်မမူပြီဟုဆို၏။- မိန်းမကလည်း၊ ကျွန်ုပ်မ
သည် ကျွန်မ သခင်ထံမှာ သားဆုကို တောင်းပါ
သလော။ ကျွန်မကိုမုသာမသုံးပါနှင့်ဟုလျှောက်
၂၉ ဆိုသည်မဟုတ်လောဟု ဆို၏။- ဧလိရှဲ သည်
ဂေဟာဇိကိုခေါ်၍၊ သင်၏ခါးကိုစည်းလော့။ ငါ
တောင်ဝေးကိုကိုင်၍သွားလော့။ လမ်းမှာလူတ
ပါးကိုတွေ့လျှင်၊ နှုတ်မဆက်နှင့်။ သင့်ကိုလူတ

ပါ၊ နှုတ်ဆက်လျှင်၊ ပြန်၍မပြောနှင့်၊ ငါ့တောင်
ဝေးကို သူငယ်၏မျက်နှာပေါ်မှာ တင်လော့ဟု
၃၀ မှာထား၏။- အမိကလည်း၊ ထာဝရဘုရား အ
သက်၊ ကိုယ်တော်အသက်ရှင်တော်မူသည်အ
တိုင်း၊ ကျွန်မသည်ကိုယ်တော်နှင့်ကွာ၍မသွား
နိုင်ပါဟုဆိုလျှင်၊ ဧလိရှဲသည်ထ၍လိုက်လေ၏။-
၃၁ ဂေဟာဇိသည်အရင်သွား၍၊ တောင်ဝေးကိုသူ
ငယ်၏မျက်နှာပေါ်မှာတင်သော်လည်း၊ သူငယ်
သည်အသံမပြု၊ အမှုမထား။ ထိုကြောင့်ဂေဟာ
ဇိသည် ဧလိရှဲကိုခရီးဦး၌ကြိုဆို၍၊ သူငယ်သည်
၃၂ မနိုး၊ ဟုပြန်ပြော၏။- ဧလိရှဲသည် အိမ်သို့
ရောက်သောအခါ၊ သူငယ်သေလျက်၊ မိမိခုတင်
ပေါ်မှာ တင်ထားလျက် ရှိသည်ကိုတွေ့မြင်၍-
၃၃ အထဲသို့ ဝင်၍၊ နှစ်ယောက် တည်းရှိစေခြင်း
ငှါတံခါးကို ပိတ်လျက်၊ ထာဝရဘုရားကို ဆု
၃၄ တောင်းလေ၏။-သူငယ်၏အနီးအပါးသို့ချည်း
၍၊ သူ့အပေါ်မှာအိပ်လျက်နှုတ်ချင်း၊ မျက်စိချင်း၊
လက်ချင်း ထပ်လျက်၊ သူငယ်အပေါ်မှာ ကိုယ်
ကိုဖြန့်အမြင့်၊ သူငယ်အသားသည်နွေးစ၏။-
၃၅ တဖန်ထ၍ အိမ်ထဲမှာ စင်္ကြံသွား ပြီးလျှင်၊
ချည်းပြန်၍ သူငယ်အပေါ်မှာ ကိုယ်ကိုဖြန့်အ
မြင့်၊ သူငယ်သည် ခုနစ်ကြိမ်ချေဆတ်၍ မျက်စိ
၃၆ ကိုဖွင့်၏။- ဧလိရှဲသည် ဂေဟာဇိကိုခေါ်၍၊ ရှု
နမ်မြို့သူ မိန်းမကို ခေါ်ထိုက်ဟု ဆိုသည်အတိုင်း
ခေါ်၍၊ သူသည်ရောက်လာသောအခါ၊ ဧလိရှဲ
၃၇ ကသင်၏သားကိုချီယူလော့ဟု ဆို၏။-မိန်းမသည်
အထဲသို့ဝင်၍၊ ခြေရင်းမှာပြပ်ဝပ်ဦးချပြီးလျှင်၊
သားကိုချီယူ၍ထွက်သွား၏။
၃၈ တဖန်ဧလိရှဲသည်ဂိလဂါလမြို့သို့သွား၍၊ ထို
ပြည်၌အစာခေါင်းပါး၏။ ပရောဖက်အမျိုးသား
တို့သည် ဧလိရှဲရှေ့မှာ ထိုင်ကြစဉ်၊ ပရောဖက်
အမျိုးသားတို့အဘို့၊ ကြီးသော ဖိုးကင်းကိုတည်
၃၉ ၍၊ ဟင်းချက်လော့ဟု၊ မိမိကျွန်အား ဆို၏။- တ
ယောက်သောသူသည် ဟင်းသီးဟင်းရွက်
ကိုရှာခြင်းငှါ၊ လယ်ပြင်သို့သွား၍၊ တောနွယ်
ပင်ကို တွေ့လျှင်၊ တောဘူးသီး ပိုက်နိုင်အောင်ကို
၄၀ ခူးယူပြီးမှ- ထိုဘူးမျိုးကို မသိဘဲ၊ ဟင်းအိုး
ထဲသို့ ခုတ်ထည့်လေ၏။ ဟင်းကို ခပ်ဖို့ယူ၊ ဆောင်း
ပြီးမှ၊ ပိုင်း၍စားကြစဉ်တွင်၊ ထိုသူတို့က ဘုရားသခင်၏
လူ၊ အိုးထဲ၌ သေစေတတ်သည်ရှိပါသည်ဟု အော်ဟစ်၍၊
၄၁ စားနိုင်ဘဲနေကြ၏။- ဧလိရှဲကလည်း၊ မုန့်
ညက်ကို ယူခဲ့ကြဟုဆို၍၊ အိုးထဲမှာ ခတ်ပြီးလျှင်၊

လူများ စားစေရာဖို့ ခပ်ပေးလော့ဟု ဆိုပြန်
သော်၊ အိုး၌အဆိပ်မရှိ။
၄၂ တဖန် ဗာလရှလိရှမြို့မှ လူတယောက်သည်
လာ၍၊ အဦးသီးသော မုယောမုန့် နှင့် ဖွဲ့ထုပ်
သော ရိုးနှံတို့နှစ်ဆယ်နှင့်၊ အိတ်၌ထည့်သော
အသီး အနှံ များကို၊ ဘုရားသခင်၏ လူထံသို့
ဆောင်ခဲ့၏။ ဧလိရှဲကလည်း၊ ဤလူများကိုကျွေး
၄၃ လော့ဟု ဆိုလျှင်- ကျွန်က အဘယ်သို့နည်း။
ကျွန်တော်သည်လူတရာကိုဤမျှနှင့်ကျွေးနိုင်ပါ
မည်လောဟု မေးလျှင်၊ ဧလိရှဲက ဤလူများကို
ကျွေးလော့၊ ထာဝရ ဘုရား မိန့်တော်မူ သည်
ကား၊ ထိုသူတို့သည် ဝစွာစားကြသော်လည်း၊
စားစရာကျန်ကြွင်းဦးမည် ဟု၊ မိန့်တော်မူ
၄၄ ကြောင်းကိုပြောဆိုသော်- ကျွန်သည် လူများ
ရှေ့မှာထည့်၍၊ ထာဝရဘုရား၏ စကားတော်
နှင့်အညီ၊ ထိုသူတို့သည် ဝစွာစားကြ၍၊ စားစ
ရာကျန်ကြွင်းလျက်ရှိ၏။

၅

၁ ရှုရိရှင်ဘုရင်၏ဗိုလ်ချုပ်မင်းနေမန်သည်မိမိ
သခင်ထံမှာမျက်နှာရသောသူ၊ ဂုဏ်းကြီးသော
သူဖြစ်၏။ အကြောင်းမူကား၊ ရှုရိပြည်သည်ထို
သူအားဖြင့်၊ အောင်ရသော အခွင့်ကို ထာဝရ
ဘုရားပေး တော်မူပြီ။ ထိုသူသည် ခွန်အားကြီး
၂ သောစစ်သူရဲဖြစ်၏။ သို့ရာတွင် နူနာစွဲ၏။- ရှုရိ
လူတို့သည် အလိုအလျောက်တပ်ဖွဲ့၍၊ ရှိသွား
စဉ်တွင်၊ ဣသရေလပြည်မှဖမ်းခဲ့သောမိန်းငယ်
တယောက်သည် နေမန်၏ မယား ထံ၌ ကျွန်ခံရ
၃ ၏။- ထိုကျွန်မကလည်း၊ ကျွန်မ သခင်သည် ရှ
မာရိမြို့၌ ရှိသော ပရောဖက်ထံသို့ ရောက်ပါစေ
သော။ ထိုပရောဖက်သည်သခင်၌စွဲသောနူနာကို
ပျောက်စေလိမ့်မည်ဟု၊ မိမိသခင်မအားဆို၏။-
၄ နေမန်သည်မိမိအရှင်ထံသို့ဝင်၍၊ ဣသရေလအ
၅ မျိုးမိန်းငယ်စကားကို ပြန်လျှောက်၏။- ရှုရိရှင်
ဘုရင်ကလည်း။ သွားလော့၊ သွားလော့၊ ဣသ
ရေလ ရှင်ဘုရင်ထံသို့ စာပေး လိုက်မည် ဟု အ
မိန့်တော် အတိုင်း၊ နေမန်သည် ငွေ အခွက် တ
ရာ၊ ရွှေအခွက်ခြောက်ထောင်၊ အဝတ်ထည်ဆယ်စုံကို
၆ ယူသွား၍- ဣသရေလ ရှင်ဘုရင် ထံသို့၊ မိမိအ
ရှင်၏ စာကို ဆက်လေ၏။ စာ၌ပါသော အချက်
ဟူမူကား၊ ကိုယ်တော်သည်ငါ့ကျွန်နေမန်၏နူနာ
ကိုပျောက်စေခြင်းငှါ၊ သူကို ဤစာနှင့် အတူ ငါ
၇ စေလွှတ်သည်ဟုပါသတည်း။- ဣသရေလရှင်

ထုရင်သည် ထိုစာကိုကြည့်ပြီးမှ၊ မိမိအဝတ်ကို
ဆုတ်၍၊ငါသည်အသက်ပေးပိုင်၊နှုတ်ပိုင်သော
ဘုရားဖြစ်သောကြောင့်၊ဤသူသည်လူနူကိုချမ်း
သာပေးစေခြင်းငှါ၊ ငါ့ထံသို့ စေလွှတ် သလော။
ကြည့်ကြလော့။ ဤသူသည် ငါ့ကို အဘယ် မျှ
လောက် ရန်ရှာချင်သည်ကို ကြည့်ကြ လော့ဟု
၈ ဆို၏။-ဣသရေလရှင်ဘုရင်သည်မိမိအဝတ်ကို
ဆုတ်သည်ဟု၊ ဘုရား သခင်၏လူ ဧလိရှဲသည်
ကြားလျှင်၊ကိုယ်တော်သည်အဘယ်ကြောင့်အ
ဝတ်ကိုဆုတ် သနည်း။ ထိုသူသည် ငါ့ထံသို့လာ
ပါစေ။ဣသရေလပြည်၌၊ပရောဖက်ရှိသည်
ကို သိလိမ့် မည်ဟု၊ ရှင် ဘုရင် ကို မှာလိုက် လေ
၉ ၏။- ထိုကြောင့်၊ နေမန်သည် မြင်းရထားကို စီး
၁၀ သွား၍၊ဧလိရှဲအိမ်ရှေ့မှာရပ်နေ၏။- ဧလိရှဲက၊
ထင်သည်သွား၍ယော်ဒန်မြစ်၌ခုနှစ်ကြိမ်တိုင်
အောင်ရေချိုးလော့။အသားပြောင်း၍သန့်ရှင်း
၁၁ လိမ့်မည်ဟု၊ လူကိုစေလွှတ်၍ပြောစေ၏။- နေ
မန်ကလည်း၊ အကယ်၍ပရောဖက်သည်ထွက်
လာစည်းငံအနားမှာရပ်လျက်၊မိမိဘုရားသခင်
ထာဝရဘုရား၏ နာမကို ခေါ်၍၊ မိမိ လက် နှင့်
သုံးသပ်သဖြင့်၊နူနာကိုပျောက်စေမည်ဟုငါထင်
၁၂ ၏။- ဒမာသက် ပြည်၌ အာဗန မြစ်၊ ဖာဖာမြစ်
တို့သည် ဣသရေလ မြစ် အလုံးစုံ ထက် သာ ၍
ကောင်းသည် မဟုတ်လော။ထိုမြစ်၌ ငါရေချိုး
၍ မသန့် ရှင်းရ သလောဟု ဆို လျက်၊ အမျက်
၁၃ ထွက်၍ပြန်သွား၏။- ကျွန်တို့သည် ချဉ်းသာ၍
အဖ၊ ခက်သောအမှုကိုပြုရမည်ဟု ပရောဖက်စီ
ရင်လျှင်၊ ပြုတော်မူမည်မဟုတ်လော။ ရေချိုး၍
ထာသန့်ရှင်းခြင်းသို့ရောက်လော့ဟုစီရင်လျှင်၊
အဘယ်မျှလောက်သာ၍ပြုတော်မူသင့်ပါသည်
၁၄ တကားဟုလျှောက်ကြသော်-နေမန်သည်သွား
၍၊ ဘုရားသခင်၏လူ စီရင်သည် အတိုင်း၊ ယော်
ဒန်မြစ်၌ ကိုယ်ကိုခုနစ်ကြိမ် နှစ်သဖြင့်၊ သူ၏အ
သားသည် သူငယ်၏အသားကဲ့သို့ပြောင်း၍သန့်
၁၅ ရှင်းခြင်းသို့ ရောက်၏။- သို့ပြီးမှ၊ လိုက်သောသူ
အပေါင်း တို့နှင့် တကွ၊ ဘုရား သခင်၏ လူထံ သို့
ပြန်လာ၍၊သူ့ရှေ့၌ရပ်လျက်၊ဣသရေလပြည်မှ
တပါးအဘယ်ပြည်၌မျှ ဘုရားသခင် မရှိသည်
ကိုယခုအကျွန်ုပ်သိပါ၏။သို့ဖြစ်၍၊ ကိုယ်တော်
၏ကျွန်လှူသောအလှူလက်ဆောင်ကို ခံယူတော်
၁၆ မူပါဟု တောင်း လျှောက် လေ ၏။- ဧလိရှဲ က
လည်း၊ ငါ ကိုးကွယ် သော ထာဝရ ဘုရား အ
သက် ရှင်တော်မူသည်အတိုင်း၊ မခံမယူရဟု ဆို
လျှင်၊ ခံယူ စေ ခြင်းငှါ၊ အခန့် ထိုက် တွန်း သော်
၁၇ လည်း၊ငြင်းပယ်လျက်နေ၏။- နေမန်ကလည်း
သို့ဖြစ်လျှင်၊ကိုယ်တော်ကျွန်သည်မြည်းနှစ်စီးနှင့်
တင်၍၊ မြေတနည်း ငယ်ကို ယူပါ ရစေ။ ကိုယ်
တော်ကျွန်သည် မိးရှို့ရာ ယဇ် အစ ရှိသော အ
ထယ်ယဇ်ကိုမျှ ထာဝရ ဘုရားမှတပါး အခြား
၁၈ သောဘုရားအား၊နောက်တခန်မပူဇော်ပါ။- သို့
သော်လည်း၊ အကျွန်ုပ်သခင်သည်ကိုးကွယ်ခြင်း
ငှါ၊ရိမ္မုန်ဘုရား၏ ကျောင်းသို့သွား၍ အကျွန်ုပ်
ကို မှီ လျက်၊ ရိမ္မုန် ကျောင်း၌ ကိုယ်ကို ညွှတ်
သောအခါ၊ အကျွန်ုပ် ကိုယ်သည်လည်း ညွှတ်
လျှင်၊ ထာဝရဘုရားသည် ကိုယ်တော် ကျွန်ကို
၁၉ အပြစ်လွှတ်တော်မူပါစေသောဟု ဆိုလျှင်- ဧလိ
ရှဲက၊ ငြိမ် ဝပ်စွာ သွား လော့ဟု ဆို၏။ နေမန်
၂၀ သည်သွား၍အဝေးသို့မရောက်မှီ- ဘုရားသခင်
၏လူဧလိရှဲ၏ကျွန်ဂေဟာဇိက၊ ဤရှုရိလူနေမန်
ဆောင်ခဲ့သောဥစ္စာကိုသခင်သည်မခံမယူ၊ ထု
ကိုအလွှန်သနားပြီ။ ထာဝရ ဘုရား အသက်ရှင်
တော်မူသည်အတိုင်း၊ သူနောက်သို့ ငါလိုက်၍
၂၁ တစုံ တခုကို ယူမည်ဟု အကြံ ရှိ လျက်- နေမန်
နောက်သို့လိုက်လေ၏။လိုက်ကြောင်းကိုနေမန်
သည်မြင်လျှင်၊ ကြိုဆိုအံ့သောငှါ ရထားမှဆင်း
၂၂ ၍ ရှိသမျှကောင်းသလောဟုမေးသော်- ဂေဟာ
ဇိက ကောင်း ပါ၏။ ယခုတွင်၊ပရောဖက် အမျိုး
သားလုလင် နှစ်ယောက်သည် ဧဖရိမ်တောင်မှ
ရောက်လာပြီ။ငွေအခွက်တဆယ်နှင့်အဝတ်နှစ်
စုံကိုသူတို့အားပေးပါလော့ဟု တောင်းစေခြင်း
ငှါ၊ကျွန်တော်သခင်သည်ကျွန်တော်ကိုစေလွှတ်
၂၃ ပါပြီဟု ဆိုလျှင်- နေမန်က၊ အခွက် နှစ်ဆယ်ကို
မငြင်း၊ ယူပါလော့ဟုတိုက်တွန်းလျက်၊ ငွေအ
ခွက် နှစ်ဆယ်ကို အိတ်နှစ်လုံး၌ အဝတ်နှစ်စုံ
နှင့်တကွစည်း၍၊ မိမိကျွန် နှစ်ယောက် အပေါ်
မှာတင်သဖြင့်၊ သူတို့သည်ဂေဟာဇိရှေ့၌ထမ်း
၂၄ သွားရ၏။- မြို့ရိုးသို့ရောက်သောအခါ၊ ထိုဥစ္စာ
ကိုဂေဟာဇိသည်ယူ၍၊ အိမ်၌ သိုထားပြီးလျှင်၊
၂၅ ထမ်းသောသူတို့ကိုလွှတ်လိုက်ပြီးမှ- ထိုသူ ထိုစ
ဝင်၍မိမိသခင်ရှေ့၌ရပ်နေ၏။ ဧလိရှဲကလည်း
ဂေဟာဇိ၊ အဘယ်အရပ်သို့သွားသနည်းဟု
မေးလျှင်၊ ကိုယ်တော်ကျွန်သည်အဘယ်အရပ်
၂၆ ကိုမျှမသွားပါဟုပြန်ပြောသော်- ဧလိရှဲက၊ထို
လူသည်သင့်ကို ကြိုဆိုအံ့သောငှါ၊ ရထားပေါ်မှ

ဖွဲ့ဆဲဘဲ့သောအခါ၊ ငါ၏စိတ်ဝိညာဉ်သည် သင်နှင့်
အတူမလိုက်ဘဲသလော။ ငွေကိုခံယူ၍ဝတ်လဲသလော၊
အဝတ်၊သံလွင်ဥယျာဉ်၊ စပျစ်ဥယျာဉ်၊သိုး၊နွား၊
ကျွန် ယောက်ျား၊ ကျွန် မိန်းမကို သိမ်းယူရန် အခါ
၂၇ လော။- ထိုကြောင့်၊ နေမန်၏နူနာသည်သင်၌၎င်း၊
သင်၏ သား၊မြေး၌၎င်း၊ အစဉ် အမြဲ စွဲစေဟု ဆို
သည်အတိုင်း၊ ဂေဟာဇိသည် နူနာစွဲ၍၊ မိုဃ်း
ပွင့်ကဲ့သို့ဖြူလျက်၊ အခင်းထဲမှထွက်သွား၏။

၆

၁ ပရောဖက် အမျိုးသားတို့က၊ ကိုယ်တော်နှင့်
အတူ ထိုင်နေသော အရပ်သည် ကျဉ်းမြောင်း၊
၂ သါ၏။- အကျွန်ုပ်တို့သည် ယော်ဒန်မြစ်နားသို့
သွားပါရစေ။ ထိုအရပ်၌ ပိုင်း၍၊ တစ်သားကို
ခုတ်ပြီးလျှင်၊ ကိုယ်နေစရာအိုးကို လုပ်ပါရစေဟု၊
လျှောက်သော် သွားကြလော့ဟု ဆို၏။
၃ တစ်ယောက်က၊ ကိုယ်တော်လည်း ကျေးဇူးပြု၍
ကိုယ်တော်ကျွန်တို့နှင့်ကြွတော်မူပါဟု တောင်း
၄ ပန်လျှင်၊ငါ သွားမည်ဟု ဝန်ခံသဖြင့်၊- သူ
တို့နှင့် အတူ လိုက်လေ၏။ ယော်ဒန် မြစ်နားသို့
၅ ရောက်သောအခါ၊ သစ်သားကိုခုတ်ကြ၏။- တ
ယောက်သော သူသည် ခုတ်စဉ်တွင်၊ ပုဆိန်သည် ရေထဲသို့
ကျ၏။ ခုတ်သောသူကလည်း၊ ဪ သခင်၊ ထိုပုဆိန်သည် ငှါးခဲ့သော ဥစ္စာဖြစ်ပါ
၆ ၏ဟု အော်ဟစ်လျှင်- ဘုရားသခင်၏လူက၊ အ
ဘယ်မှာကျသနည်းဟု မေးသော်၊ ကျရာ အရပ်
ကိုပြပြီးမှ၊ ဂုတ်ကိုခုတ်၍ ထိုအရပ်၌ပစ်သဖြင့်၊ပု
၇ ဆိန် သည် ပေါ်သော နေ၏။- ဆယ်ယူ လော့ဟု
ဧလိရှဲ ဆိုသည်အတိုင်း၊ ထိုသူသည် လက်ကို
ဆန့်၍ ယူ၏။

၈ တခန်၌ ရှုရိရှင်ဘုရင်သည် ဣသရေလပြည်ကို
စစ်တိုက်၍၊ ဤမည်သောအရပ်၊ ဤမည်သော အ
ရပ်၌ ငါတို့သည် တပ်ချကြကုန်အံ့ဟု၊ ကျွန်တို့
၉ နှင့် တိုင်ပင်သောအခါ- ဘုရားသခင်၏လူသည်
ဣသရေလရှင်ဘုရင်ထံသို့ လူကိုစေလွှတ်၍၊ ဤ
မည်သောအရပ်ကိုသတိပြုပါ။ ထိုအရပ်သို့ ရှုရိ
၁၀ လူတို့သည်လာကြပြီဟု- သတိပေးသောအရပ်
သို့ ဣသရေလ ရှင်ဘုရင် သည်လူကိုစေလွှတ်၍၊
တကြိမ် နှစ်ကြိမ် မကရန်သူတို့ [illegible]ခင်လေ၏။-
၁၁ ထိုအကြောင်းကြောင့် ရှုရိရှင်ဘု[illegible]သည် စိတ်
ပူပန်၍၊ ကျွန်တို့ကို ခေါ်ပြီးလျှင်၊ ငါတို့တွင် အ
ဘယ်သူသည် ဣသရေလ ရှင်ဘုရင်ဘက်၌ နေ
သည်ကို ငါ့အား မပြဘဲ နေကြသနည်းဟု မေး

၁၂ လော်- ကျွန်တစ်ယောက်က၊ ထိုသို့ မဟုတ်ပါ။ အ
ရှင်မင်းကြီး၊ ကိုယ်တော် စက်တော်မူခန်းထဲ၌
မိန့်တော်မူသောစကားကိုပင်၊ ဣသရေလပြည်
၌ရှိသောပရောဖက်ဧလိရှဲသည်၊ဣသရေလရှင်
ဘုရင်အား ပြန်ပြောတတ်ပါသည်ဟု လျှောက်
၁၃ လေ၏။- ရှင်ဘုရင်ကလည်း၊ သူသည် အဘယ်
အရပ်၌ရှိသည်ကိုသွား၍ ရှာ၍ကြည့်လော့။
သူကိုဖမ်း၍ဆီးစေခြင်းငှါ ငါစေလွှတ်မည်ဟု မိန့်
တော်မူပြီး၊ ဒေါသန်မြို့၌ရှိပါသည်ဟုလျှောက်
၁၄ လေ၏။ ထိုမြို့သို့မြင်းစီးသူရဲ၊ ရထားစီး သူရဲ၊
မိုလ်ခြေ များ ကို စေ လွှတ် သဖြင့်၊ ညည့် အခါ
၁၅ ရောက်၍ မြို့ကိုဝိုင်းကြ၏။- နံနက်စောစောဘုရား
သခင်လူ၏ကျွန်သည်ထ၍ပြင်သို့ထွက်သောအ
ခါ၊မြင်းစီးသူရဲ၊ရထားစီးသူရဲ၊မိုလ်ခြေတို့သည်
မြို့ကိုဝိုင်းလျက် ရှိကြသည်ဖြစ်၍၊ အိုသခင်၊အ
ဘယ်သို့ပြုရပါမည်နည်းဟု၊ မိမိသခင်အားဆို
၁၆ ၏။- ဧလိရှဲကမစိုးရိမ်နှင့်။ငါတို့ဘက်၌ နေသော
သူတို့သည် ရန်သူတို့ဘက်၌နေသောသူတို့ထက်
၁၇ သာ၍ များကြ သည်ဟု ဆိုလျက်- အိုထာဝရ
ဘုရား၊ဤသူသည်မြင်နိုင်မည်အကြောင်း၊သူ၏
မျက်စိကို ဖွင့်တော်မူပါဟု၊ ဆုတောင်းသည် အ
တိုင်း၊ ထာဝရဘုရားသည်ထိုလုလင်၏ မျက်စိ
ကို ဖွင့် တော် မူ သဖြင့်၊ ဧလိရှဲပတ်ထည်၌ အ
တောင် ထုံးသည် မီးမြင်း၊ မီးရထား နှင့် ပြည့်
၁၈ သည်ကိုမြင်လေ၏။- ရှုရိလူတို့သည်ရောက်လာ
သောအခါ၊ ဧလိရှဲက၊ အိုထာဝရဘုရား၊ ဤသူတို
၏မျက်စိ မမြင်စေခြင်းငှါ၊ ဒဏ် ခတ်တော်မူပါ
ဟုဆုတောင်းသည်အတိုင်း၊ ဒဏ် ခတ်တော်မူ
၁၉ ၏။- ဧလိရှဲက လည်း၊ ဤလမ်း မဟုတ်၊ ဤမြို့
လည်းမဟုတ်။နောက်သို့လိုက်ကြ။ သင်တို့ရှာ
သောသူရှိရာသို့ ငါပို့မည်ဟု ဆိုလျက်၊ ရှမာရိ
၂၀ မြို့သို့ပို့လေ၏။- မြို့ထဲသို့ရောက်ပြီးမှ ဧလိရှဲက၊
အိုထာဝရဘုရား၊ ဤသူတို့သည်မြင်နိုင်မည်အ
ကြောင်း၊ သူတို့၏မျက်စိကိုဖွင့်တော်မူပါဟု၊ဆု
တောင်း သည် အတိုင်း၊ သူတို့၏ မျက်စိကို ဖွင့်
တော်မူသဖြင့်၊ သူတို့သည် မြင်၍၊ ရှမာရိ မြို့ထဲ
၂၁ မှာရှိသည်ဟု သိကြ၏။- ဣသရေလ ရှင်ဘုရင်
ကလည်း၊ အဘ၊ ထိုသူတို့ကိုထားနှင့်သတ်ရပါ
၂၂ မည်လောဟု၊ ဧလိရှဲအား မေးလျှင်- မသတ်ပါ
နှင့်၊ ထားနှင့်ခုတ်လျက်၊ လေးနှင့် ပြစ်လျက်တိုက်
ယိုက်၍ဖမ်းမိသောသူတို့ကို သတ်ရမည်လော။
သူတို့ရှေ့မှာ မုန့်နှင့် ရေကို ထည့်၍၊ သူတို့သည်

စားသောက်ပြီးမှ၊ မိမိတို့သခင်ထံသို့သွားပါစေ
၂၃ ဟုဆိုလျှင်- များစွာသော စားစရာကို ပြင်ဆင်
၍၊ စားသောက်စေပြီးမှလွှတ်လိုက်သဖြင့်၊ သူတို့
သည် မိမိ တို့ သခင် ထံ သို့ ပြန် သွား ကြ၏။ ထို
နောက်မှ၊ ရှုရိလူတို့သည်အလိုအလျောက်တစ်
ဖွဲ့၍ ဣသရေလပြည်သို့မလာကြ။
၂၄ နောက် တဖန် ရှုရိ ရှင်ဘုရင် ဗင်္ဟာဒဒ် သည်
မိုလ်ခြေ အပေါင်းကို စုဝေးစေသဖြင့်၊ စစ်ချီ၍ ရှ
၂၅ မာရိမြို့ကို ဝိုင်းထား၏။- ကြာမြင့်စွာ ဝိုင်း ထား
သောကြောင့်၊ ရှမာရိမြို့၌ အလွန် အစာ ခေါင်း
ပါး၍၊ မြည်းခေါင်းတလုံးကိုငွေရှစ်ဆယ်နှင့်၎င်း၊ ပဲ
ကြမ်းတပြည်ကိုငွေငါးကျပ်နှင့်၎င်းရောင်းရ၏။-
၂၆ ဣသရေလရှင်ဘုရင်သည် မြို့ရိုးပေါ်မှာ ရှောက်
သွား စဉ်၊ မိန်းမ တယောက်က အရှင် မင်း ကြီး၊
၂၇ ကယ်မတော်မူပါဟုအော်ဟစ်၏။-ရှင်ဘုရင်က၊
ထာဝရဘုရားကယ်မတော်မမူလျှင်၊ ငါသည်အ
ဘယ်သို့ကယ်မနိုင်မည်နည်း။ စပါးနယ်ရာတ
လင်း၊ စပျစ်သီးနယ်ရာ ကျင်းထဲက၊ ကယ်မရ
၂၈ မည်လောဟူ၍၎င်း- သင်၌ အဘယ်သို့ ဖြစ်သ
နည်းဟူ၍၎င်းမေးလျှင်၊ မိန်းမက၊ ဤမိန်းမသည်ကျွန်
မဆီသို့ လာ၍၊ သင့် သားကို ယနေ့ ငါတို့ စားဖို့
အပ်ပါ။ နက်ဖန်နေ့၌ငါ့သားကိုစားရမည်ဟုဆို
၂၉ သည်အတိုင်း၊-ကျွန်မ၏သားကို ပြုတ်၍စားကြ
ပါ၏။ နက်ဖန်နေ့၌ကျွန်မက၊ သင်၏သားကိုငါတို့
စားဖို့အပ်ပါဟု တောင်းသော်၊ သူသည်မိမိသား
၃၀ ကိုဝှက်ထားပါသည်ဟု လျှောက် လေ ၏။ ရှင်
ဘုရင်သည်ထိုမိန်းမ၏စကားကိုကြားလျှင်၊ မိမိအ
ဝတ်ကိုဆုတ်လေ၏။ မြို့ရိုးပေါ်မှာရှောက်သွား
စဉ်လူတို့သည် ကြည့်၍၊ အတွင်း၌ လျှော်တေ
အဝတ်ဖြင့်ဝတ်တော်မူကြောင်းကို သိမြင်ရကြ
၃၁ ၏။- ရှင်ဘုရင်က လည်း၊ ရှာဖတ်သား ဧလိရှဲ၏
ဦးခေါင်းသည် ယနေ့ သူကိုယ်နှင့် မကွာဘဲ နေ
လျှင်၊ ထာဝရဘုရားသည်ထိုမျှမက၊ ငါ၌ပြုတော်
၃၂ မူပါစေသောဟု ဆို၏။- ဧလိရှဲသည် မိမိအိမ်၌
ထိုင်၍အသက်ကြီးသူတို့သည် သူနှင့်အတူထိုင်
ကြစဉ်၊ ရှင်ဘုရင်သည်မိမိရှေ့မှာလူတယောက်
ကိုစေလွှတ်၏။ ထိုတမန်မရောက်မှီ ဧလိရှဲက၊ လူ
သတ်၏သားသည်ငါ့လည်ပင်းကို ဖြတ်စေခြင်း
ငှါ၊ စေလွှတ်သည်ကိုသိမြင်ကြသလော။ ထိုတ
မန်ရောက်သောအခါ၊ တံခါးကို ပိတ်၍၊ တံခါး
နားမှာသူကို ဆီးတားကြလော့။ သူ့နောက်မှာသူ့
၃၃ သခင်ခြေသံမကြားသလောဟု- အသက်ကြီးသူ

တို့အား ပြောစဉ်တွင်၊ ထိုတမန် သည် ရောက်
လာ၏။ ရှင်ဘုရင်ကိုယ်တိုင်ရောက်လျှင်၊ ဤအမှု
သည်ထာဝရဘုရားစီရင်သော အမှုဖြစ်၏။ ထာ
ဝရဘုရား၏ ကျေးဇူးကို အဘယ်ကြောင့် မျှော်
လင့်ရသေးသနည်းဟုဆိုသော်၊

၇

၁ ဧလိရှဲက၊ ထာဝရ ဘုရား၏ စကား တော် ကို
နားထောင်ကြလော့။ ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ နက်ဖန်နေ့၊ ထိုအချိန်ရောက်လျှင်၊
ဂျုံမုန့်ညက်တစိတ်ကို ငွေတကျပ်၊ မုယောဆန်
နှစ်စိတ်ကို တကျပ်နှင့်၊ ရှမာရိမြို့တံခါးဝ၌ ရောင်း
၂ ရလိမ့်မည်ဟု ဆင့်ဆို၏။- ရှင်ဘုရင်မှီခြင်းကိုခံ
ရ သော အမတ်က၊ ထာဝရ ဘုရား သည် မိုးလ်း
ကောင်းကင်၌ပြတင်းပေါက်တို့ကိုဖွင့်ဖောက်တော်
မူလျှင်၊ ထိုသို့ဖြစ်နိုင် ကောင်း သည်တုံ၊ ဘုရား
သခင်၏ လူအား ဆိုသော်၊ ဘုရားသခင်၏လူက၊
သင်သည်ကိုယ်မျက်စိနှင့် မြင်ရသော်လည်း၊ မ
၃ စားရဟုပြန်ပြော၏။- ထိုအခါမြို့တံခါးဝ၌ ထိုင်
လျက် ရှိသော လူနူ လေး ယောက် တို့ က၊ ငါ တို့
သည်သေသည်တိုင်အောင်၊ အဘယ်ကြောင့် ဤ
၄ အရပ်၌ ထိုင်ရမည်နည်း။- မြို့ထဲသို့ ဝင်လျှင်အ
စာခေါင်းပါးသောကြောင့်သေရမည်၊ ဤအရပ်
၌ထိုင်လျက်နေလျှင်လည်းသေရမည်ဖြစ်၍၊
ရှုရိတပ်သို့ ဝင်စား ကြကုန်အံ့။ သူတို့သည် အ
သက် ရှင် စေလျှင် ရှင်ရမည်၊ သတ် လျှင် သေရ
၅ မည်ဟုတိုင်ပင်ပြီးလျှင်- မိုးမလင်းမှီထ၍ ရှု
ရိ တပ်သို့ သွားကြ၏။ တပ်ဦးသို့ရောက်သောအ
၆ ခါ အဘယ်သူကိုမျှ မတွေ့ကြ။- အကြောင်းမူ
ကား ရှုရိလူတို့သည်ရထားစီးသူ၏ မြင်းစီးသူ
၏ များစွာသော မိုလ်ခြေအသံကိုကြားစေခြင်း
ငှါ၊ ထာဝရဘုရား ပြုတော်မူသဖြင့်၊ သူတို့က၊ ဣ
သရေလ ရှင်ဘုရင်သည် ငါတို့ကို တိုက်စေခြင်း
ငှါ၊ ဟိတ္တိမင်းများ၊ အဲဂုတ္တုမင်းများတို့ကို ငှါးပြီ
၇ ဟု တယောက်ကို တယောက်ဆိုလျက်- မိုးမ
လင်းမှီ ထ၍ သူတို့ အဲ မြင်း၊ မြည်းအစရှိသော တ
တစ်လုံးကို စွန့်ပစ်၍၊ ကိုယ် အသက် လွတ်
၈ အောင် ပြေး ကြ ၏။- လူနူ တို့သည် တပ်ဦး သို့
ရောက် သော အခါ၊ ထဲ တ ခု ထဲ သို့ ဝင် ၍ စား
သောက်ပြီးမှ၊ ရွှေငွေအဝတ်တန်ဆာများကို ယူ
သွားပြီးလျှင် ဝှက်ထား ကြ၏။ နောက်တဖန် အ
ခြားသောထဲသို့ဝင်၍၊ ဥစ္စာများကို ယူသွားပြီး
၉ လျှင် ဝှက်ထားကြ၏။- သို့ရာတွင်၊ ငါ တို့သည်

ကောင်း ခွင့် စွာ မပြုပါ တကား။ ယခု နေ့ သည်
ကောင်းသော သိတင်းကို ကြားပြောရသော နေ့
ဖြစ်လျက်၊ ငါတို့သည်မကြားမပြောဘဲနေပါပြီ
တကား။မိုဃ်းလင်းသည်တိုင်အောင်မပြောဘဲ
နေလျှင်၊ အမှုတစုံတခုရောက်လိမ့်မည်။ သို့ဖြစ်
၍၊ နန်းတော်၌ သိတင်း ကြားပြော အံ့သော ငှါ၊
၁၀ ငါတို့သည်သွားကြကုန်အံ့ဟု တိုင်ပင်ပြီးမှ- မြို့
သို့ သွား၍၊ တံခါး ပြင်၌ တစ် ခေါ်လျက်၊ ငါတို့
သည် ရှုရိ တပ်သို့ ရောက် ၍၊ အဘယ်သူကိုမျှမ
တွေ့။လူသံကိုမကြား။မြင်း၊ မြည်တို့ကိုချည်နှောင်
လျက်၊ တဲများလည်းတတ်တိုင်း ရှိသည်ကိုတွေ့
၁၁ ပါ၏ဟုကြားပြောသည်အတိုင်း-တံခါးစောင့်တို့
သည် တယောက်ကို တယောက် ဟစ်၍၊ ထိုသိ
၁၂ တင်းသည်နန်းတော်ထဲသို့ရောက်လေ၏။-မိုဃ်း
မလင်းမှီရှင်ဘုရင်သည်ထ၍၊ရှုရိလူတို့သည်ငါ
တို့၌ အဘယ်သို့ပြုလိုသည်ကို ငါပြောမည်။သူ
တို့က၊ မြို့ပြင်သို့ထွက်သော မြို့သားတို့ကို အရှင်
ဖမ်းပြီးမှ၊ မြို့ထဲသို့ဝင်မည်အကြံရှိ၍၊ ငါတို့ငတ်
မွတ်ကြောင်းကိုသိသောကြောင့်၊မိမိတို့တပ်ပြင်
သို့ထွက်၍တော၌ပုန်းရှောင်လျက်နေကြသည်
၁၃ ဟုဆိုလျှင်-ကျွန်တယောက်က၊ မြို့၌ကျန်ကြွင်း
သော မြင်းငါးစီးကို ပေး တော် မူပါ။ ထိုမြင်း မူ
ကား၊ ပျက်စီးခြင်းသို့ ရောက်သော ဣသရေလ
အမျိုးအလုံး အရင်းကဲ့သို့ ဖြစ်ပါ၏။ ထိုမြင်းတို့
ကို စီးလျက် သွား၍၊ ကြည့်ရှု ရသော အခွင့်ကို
၁၄ ပေးတော် မူပါဟု လျှောက်ပြီးမှ- ရထား မြင်း
နှစ်စီးကို ယူပြီးလျှင်၊ သွား၍ကြည့်ရှု လော့ဟု
ရှင်ဘုရင်သည် ရှုရိဗိုလ်ခြေနောက်သို့စေလွှတ်
၁၅ သည်အတိုင်း-ယော်ဒန်မြစ် တိုင် အောင် လိုက်
ကြ၏။ ရှုရိလူတို့သည်အလျင်အမြန်ပြေးရာတွင်၊
ဖြစ်ခဲ့သော အဝတ်တန် ဆာ တို့သည် ထမ်းမှ
ပြည့်လျက်ရှိကြ၏။စေလွှတ်သူတို့သည်ပြန်လာ
၁၆ ၍၊နားတော်လျှောက်ကြ၏။-ထိုအခါမြို့သားတို့
သည်ထွက်၍၊ ရှုရိတဲတို့ကိုလုယူကြ၏။ထာဝရ
ဘုရား၏ စကား တော် အတိုင်း၊ ဂျုံမုန့်ညက် တ
မိတ်ကိုငွေတကျပ်၊ မုယောဆန်တခွဲကိုတကျပ်
၁၇ နှင့်ရောင်းကြ၏။- ရှင်ဘုရင်မှီခြင်းကို ခံရသော
အမှတ်အ ည်၊ အမိန့်တော်အတိုင်း တံခါးတော်
ကိုစောင့်သည်တွင်၊ ထွက်ဝင်သောသူတို့ နင်းမိ
၍၊ဘုရားသခင်၏လူသည် ရှင်ဘုရင်ရောက်လာ
သောအခါပြောဆိုနှင့်သည်အတိုင်း၊ထိုအမှတ်
၁၈ သေလေ၏။- ဘုရား သခင်၏ လူက၊ နက်ဖန်နေ့၊
ယခုအချိန်ရောက်လျှင်၊ ဂျုံမုန့်ညက်တမိတ်ကို
ငွေတကျပ်၊မုယောဆန်တခွဲကိုတကျပ်နှင့်ရှမာ
ရိမြို့တံခါး၌ ရောင်းရလိမ့်မည်ဟု၊ ရှင်ဘုရင်
၁၉ အားဆင့် ဆိုသည် အတိုင်း ဖြစ်၏။- အမှတ် က
လည်း၊ထာဝရဘုရားသည်မိုဃ်းကောင်းကင်၌
ပြတင်းပေါက်တို့ကို ဖွင့်လှစ်တော်မူလျှင်၊ ထိုသို့
ဖြစ်နိုင်ကောင်းသည်ဟု၊ဘုရားသခင်၏လူအား
ဆို၍၊ဘုရားသခင်၏လူက၊သင်သည်ကိုယ်မျက်
စိနှင့်မြင်ရသော်လည်း၊မစားရဟုပြန်ပြောသည်
၂၀ အတိုင်း- ထိုအမှတ်၌ ဖြစ်၏။ မြို့တံခါးဝမှာ၊ မြို့
သားတို့နင်းခြင်းကိုခံရ၍သေသတည်း။

၈

၁ တဖန်ဧလိရှဲသည် အထက်ကအသက်ရှင်စေ
သောသူငယ်၏ အမိကိုခေါ်၍၊ သင်သည်အိမ်
သူအိမ်သားနှင့်တကွထသွားလော့။တည်းခို၍
နေနိုင်သော အရပ် တစုံတရပ်၌ တည်းခို၍ နေ
လော့။ ထာဝရဘုရားသည် အစာခေါင်းပါးရာ
ကာလကိုမှာလိုက်တော်မူပြီ၊တပြည်လုံး၌ခုနစ်
၂ နှစ်ခေါင်းပါးလိမ့်မည်ဟု သတိပေး၏။- ထိုမိန်း
သည် ဘုရား သခင် လူ၏ စကားကို နား ထောင်
သဖြင့်၊ အိမ်သူ အိမ် သား တို့နှင့် တကွသွား၍၊
၃ ဖိလိတ္တိပြည်၌ခုနှစ်နှစ်နေ၏။-ခုနှစ်နှစ်စေ့သော
အခါ၊ဖိလိတ္တိပြည်မှပြန်လာ၍ကိုယ်အိမ်၊ ကိုယ်
မြေကိုရအံ့သောငှါ၊အသနားတော်ခံမည်အကြံ
၄ နှင့် ရှင်ဘုရင်ထံသို့သွား၏။- ထိုအခါရှင်ဘုရင်
သည်ဘုရား သခင်လူ၏ကျွန် ဂေဟာဇိနှင့်ခွဲတ်
ဆက်လျက်၊ ဧလိရှဲပြုသော၊အံ့ဩဖွယ်သော
အမှုအလုံးစုံတို့ကို ပြောပါလော့ဟု မိန့်တော်မူ
၅ ၍- ဧလိရှဲသည် သေ သောသူ အ သက် ရှင်စေ
ကြောင်းကို၊ ဂေဟာ ဇိသည် ပြန်လျှောက် စည်
တွင်၊ အသက်ရှင်စေသောသူငယ်၏ အမိသည်
ကိုယ်အိမ်၊ ကိုယ်မြေကိုရအံ့သောငှါ၊အသနား
တော်ခံလေ၏။ ဂေဟာဇိကလည်း၊ အရှင်မင်း
ကြီး၊ ဤမိန်းမကား၊ ယခုပြောသောမိန်းမ၊ ဤသူငယ်
ကား၊ ဧလိရှဲအသက်ရှင်စေသော သူငယ်ဖြစ်ပါ
၆ သည်ဟုလျှောက်လျှင်- ရှင်ဘုရင်သည် မိန်းမကို
မေး၍၊ မိန်းမလည်း သက်သေခံ၏။ ထိုအခါ ရှင်
ဘုရင်က၊သူ၏ဥစ္စာရှိသမျှကိုရင်၊ပြည်တော်က
ထွက်သော နေ့မှစ၍ ယခုတိုင်အောင်၊ လယ်မြေ၌
ဖြစ်သမျှကိုရင်၊ပြန်ပေးစေဟုမိန့်တော်မူလျက်၊
သူ၏အမှုကိုစောင့်စေခြင်းငှါ၊အရာရှိတယောက်
ကိုခန့်ထားတော်မူ၏။

၇ ထိုနောက် ဧလိရှဲသည် ဒမာသက် မြို့သို့ သွား၏။ ထိုအခါ ရှုရိရှင်ဘုရင် ဗေဟဒဒ်သည် နာနေ၏။ ဘုရားသခင်၏လူ ရောက် ကြောင်းကို နားထောင်
၈ လျှောက်သောအခါ- ဟာဇေလကိုခေါ်၍၊ လက်ဆောင်ကိုဆောင်လျက်ဘုရားသခင်၏လူကို ခရီးဦးကြိုပြုပြီးလျှင်၊ ငါသည်ဤအနာမှ ပျောက်မည်လောဟု၊ ထိုသူအားဖြင့် ထာဝရဘုရားကို မေးလျှောက်လော့ဟု မှာထား
၉ တော်မူ၏။- ဟာဇေလသည် ကုလားအုတ် လေးဆယ် အပေါ်မှာ ဒမာသက်ဥစ္စာများကိုတင်၍၊ လက်ဆောင်ကို ဆောင်သဖြင့်၊ ဘုရားသခင်၏လူကို ခရီးဦးကြိုပြုခြင်းငှါ၊ သွား၍ ရှေ့တော်၌ ရပ်လျက်၊ ကိုယ်တော်၏သား ရှုရိ ရှင်ဘုရင် ဗေဟဒဒ်က၊ ငါသည် ဤအနာမှ ပျောက်ရမည်လောဟု မေးမြန်းစေခြင်းငှါ၊ ကျွန်တော်ကို
၁၀ စေလွှတ်ပါသည်ဟု ဆို၏။- ဧလိရှဲကလည်း၊ အကယ်စင်စစ်ကိုယ်တော်သည် ပျောက်နိုင်ပါ၏ဟုပြန်လျှောက်လော့။ သို့သော်လည်း၊ ဆက်ဆက် သေရမည် အကြောင်းကို၊ ထာဝရဘုရား
၁၁ သည်ငါ့အား ပြတော်မူပြီဟု ဆိုလျက်- ငေးငေးကြည့်ရှု၍ ဟာဇေလသည် မျက်နှာပျက်သော်၊ ဘုရားသခင်၏လူသည်လည်းမျက်ရည်ကျ၏။-
၁၂ ဟာဇေလ က လည်း၊ သခင် သည် အဘယ် ကြောင့် မျက် ရည် ကျတော်မူသနည်းဟု မေးလျှင်၊ ဧလိရှဲကသင်သည်ဣသရေလအမျိုးသားတို့၌ပြုလတ္တံ့သော ဘေးဥပါဒ်တည်းဟူသော၊ သူတို့၏ရဲတိုက်များကိုမီးရှို့ခြင်း၊ လုလင်များကို ဓားနှင့် သတ်ခြင်း၊ သူငယ်များကို မြေပေါ်မှာ ဆောင့်ပစ်ခြင်း၊ ကိုယ်ဝန်ဆောင်သောမိန်းမများ၌ ဝမ်းခွဲခြင်းကို ပြုလိမ့်မည်ဟု ငါသိမြင်သော ကြောင့်၊ မျက်ရည်ကျသည်ဟု ပြန်ပြောသော်-
၁၃ ဟာဇေလက၊ ကိုယ်တော်ကျွန်သည် ခွေးဖြစ်လျက်နှင့်၊ ဤမျှလောက်ကြီးသောအမှုကိုပြုရပါ လိမ့်မည်လောဟု မေးပြန်သော်၊ ဧလိရှဲက၊ သင်သည် ရှုရိနိုင်ငံကို မင်းပြုလိမ့်မည် အကြောင်း ကို၊ ထာဝရဘုရားသည် ငါ့အား ပြတော်မူပြီဟု
၁၄ ဆို၏။- ဟာဇေလသည်သွား၍၊ မိမိသခင်ထံသို့ ရောက်သောအခါ၊ သခင်က၊ ဧလိရှဲသည် အ ဘယ်သို့ ဆိုသနည်းဟု မေးလျှင်၊ ကိုယ်တော် သည်အနာမှဆက်ဆက် ပျောက်တော်မူမည်
၁၅ ဆိုပါသည်ဟု လျှောက် လေ၏။- နက်ဖန် နေ့၌ ဟာဇေလသည်သိုးမွေးအဝတ်ကိုရေ၌နှစ်ပြီး လျှင်၊ ရှင်ဘုရင်၏မျက်နှာကိုဖုံးအုပ်သဖြင့်၊ ရှင် ဘုရင်သေ၍ ဟာဇေလသည်နန်းထိုင်လေ၏။
၁၆ ဣသရေလရှင်ဘုရင် အာဟပ်သား ယောရံ နန်းစံ ငါးနှစ်တွင်၊ ယုဒ ရှင်ဘုရင် ယောရှဖတ်
၁၇ အားထ ယောရှဖတ် သားယောရံသည်နန်းထိုင်လေ၏။- အသက် သုံးဆယ်နှစ်နှစ်ရှိသော်၊ ယေရုရှလင်မြို့၌ မင်းပြု
၁၈ ၍ ရှစ်နှစ်စိုးစံ၏။- အာဟပ်သမီးနှင့် စုံဖက်သဖြင့်၊ ဣသရေလ ရှင်ဘုရင်တို့ လိုက်ရာ ထမ်းသို့အာ ဟပ်အမျိုးကဲ့သို့ လိုက်၍၊ ထာဝရ ဘုရား ရှေ့
၁၉ တော်၌ ဒုစရိုက်ကို ပြု၏။- သို့ရာတွင်၊ ထာဝရ ဘုရားသည်ဒါဝိဒ်အစဉ်မပြတ်သောသားမြေးတို့၏မီး ခွက်ကိုအစဉ်ထွန်းထင်းစေမည်ဟု၊ ဂတိတော် ရှိသောကြောင့်၊ ဒါဝိဒ်၏မျက်နှာကိုထောက်၍၊
၂၀ ယုဒပြည်ကို မဖျက်ဆီးဘဲ ထားတော်မူ၏။- ထို မင်းလက်ထက်၌၊ ဧဒုံပြည်သည်ယုဒရှင်ဘုရင် ကိုပုန်ကန်၍၊ ကိုယ်အမျိုးသားကိုရှင်ဘုရင်အ
၂၁ ရာ၌ ချီးမြှောက်ကြ၏။- ယောရံ မင်းသည် ရထားစီးသူရဲအပေါင်းတို့နှင့်တကွ၊ ဇာဣရမြို့ သို့စစ်ချီ၍ ညည့်အခါ ဝိုင်းသော ဧဒုံ လူ များ၊ ရထား အုပ်များကို လုပ်ကြံ သဖြင့်၊ ဧဒုံ လူ တို့
၂၂ သည်မိမိတို့နေရာသို့ပြေးကြ၏။- သို့သော်လည်း ဧဒုံပြည်သည်ယနေ့တိုင်အောင်၊ ယုဒရှင်ဘုရင် ကို ပုန်ကန် ၏။ ထို ကာလ ၌ လိဗနာ ပြည် သည်
၂၃ လည်းပုန်ကန်၏။- ယောရံပြုသောအမှုအ ရာကြွင်းလေသမျှတို့သည်၊ ယုဒရာဇဝင်၌ ရေး
၂၄ ထားလျက်ရှိ၏။- ယောရံသည် ဘိုးတော်တို့ နှင့်အိပ်ပျော်၍၊ သူတို့နှင့်အတူ ဒါဝိဒ်မြို့၌သင်း ဂြိုဟ်ခြင်းကိုခံလေ၏။ သားတော်အာခဇိသည် ခမည်းတော်အရာ၌နန်းထိုင်၏။
၂၅ ဣသရေလ ရှင်ဘုရင်အာဟပ်သား ယောရံ နန်းစံ ဆယ်နှစ်နှစ်တွင်၊ ယုဒရှင်ဘုရင် ယောရံ
၂၆ ၏သားအာခဇိသည် နန်းထိုင်လေ၏။- အသက် နှစ်ဆယ်နှစ်နှစ်ရှိသော်၊ မင်းပြု၍ ယေရုရှလင် မြို့၌ တနှစ်စိုးစံ၏။ မယ်တော်ကား၊ ဣသရေလ ရှင်ဘုရင် ဩမရိ မြေး၊ အာသလိ အမည် ရှိ၏။-
၂၇ အာခဇိသည်အာဟပ်၏သမက်ဖြစ်သဖြင့်၊ အာ ဟပ်အမျိုး၊ လိုက်ရာလမ်းသို့လိုက်၍၊ အာဟပ် အမျိုးကဲ့သို့ ထာဝရဘုရား ရှေ့တော်၌ ဒုစရိုက်
၂၈ ကိုပြု၏။- အာဟပ်၏သားယောရံနှင့်ပေါင်းဖော်၍ ဂိလဒ်ပြည် ရာမုတ်မြို့သို့စစ်ချီ၍၊ ရှုရိရှင်ဘုရင် ဟာဇေလ ကို တိုက် ရာ တွင်၊ ရှုရိ လူ တို့သည်
၂၉ ယောရံကိုထိခိုက်ကြ၏။- ထိုသို့ရာမုတ်မြို့၌ ရှုရိ

ရှင်ဘုရင် ယာခေဇကိုတိုက်၍၊ ရှမိထုတ်မိုက်
သောအနာပျောက်ခြင်းငှါ၊ ယောရံမင်းကြီး
သည်ယေဇရေလမြို့သို့ပြန် သွား၍၊ နာကျက်နေ
စဉ်တွင်၊ ယုဒရှင်ဘုရင်ယဟောရံ၏သားအာခဇိ
သည်သည်း၊ အာဟပ်သားယောရံကိုကြည့်ရှု
ခြင်းငှါ၊ ထိုမြို့သို့ဆင်းသွားလေ၏။

၉

၁ ထိုအခါပရောဖက် ဧလိရှဲသည် ပရောဖက်အ
မျိုးသား တယောက် ကို ခေါ်၍၊ သင်၏ ခါးကို
စည်းလော့၊ ဤဆီဘူးကို ယူ၍၊ ဂိလဒ်ပြည် ရာ
၂ မုတ်မြို့သို့သွားလော့။ ရောက်သောအခါ၊ နိမ်ရှိ
သားယောရှဖတ်၏သားယေဟုကိုရှာ၍၊ သူထံ
သို့ဝင်လျက်၊ သူကို သူ၏အပေါင်း အဖော်စုထဲ
က ထွက်စေ၍၊ အတွင်း အခန်း ထဲသို့ ခေါ်ပြီး
၃ လျှင်- ဤဆီဘူးကိုကိုင်၍၊သူ၏ခေါင်းပေါ်၌ဆီ
ကိုသွန်းလျက်၊ ထာဝရဘုရားက၊ ငါသည်
သင့်ကို ဣသရေလ ရှင်ဘုရင်အရာ၌ ခန့်ထား၍
အဘိသိတ် ပေးသည်ဟု၊ မိန့်တော်မူကြောင်းကို
ဆင့်ဆိုပြီးမှ၊ တံခါးကို ဖွင့်၍၊ မဆိုင်းမလင့်ဘဲ
၄ ပြေးလော့ဟုမှာထားလေ၏။- ထိုပရောဖက်အ
မျိုးသား လုလင်သည် ဂိလဒ်ပြည် ရာမုတ်မြို့သို့
၅ သွား၏။-ရောက်သောအခါ၊ ဗိုလ်မင်းတို့သည်အ
ထူထိုင်လျက်ရှိကြ၏။ပရောဖက်က၊ အိုဗိုလ်မင်း၊
ကိုယ်တော်အား ပြောစရာရှိသည်ဟု ဆိုလျှင်၊
ယေဟုက၊ ငါတို့အပေါင်းတွင်အဘယ်သူအား
ပြောစရာ ရှိသနည်းဟု မေးသော်၊ အိုဗိုလ်မင်း
ကိုယ်တော်အား ပြောစရာရှိသဉ်ဟုပြန်ဆို၏။-
၆ ထိုအခါယေဟုသည်ထ၍အိမ်ထဲသို့ဝင်သဖြင့်၊
ပရောဖက်သည်သူ၏ခေါင်းပေါ်၌ဆီကိုသွန်း
လျက်၊ ဣသရေလအမျိုး၏ဘုရားသခင်ထာဝရ
ဘုရားက၊ ငါသည်သင့်ကို ထာဝရဘုရား၏ လူ
ဣသရေလအမျိုး၏ရှင်ဘုရင်အရာ၌ခန့်ထား၍
၇ ဘိသိတ်ပေး၏။ ငါ့ကျွန်ပရောဖက်တို့ကိုသတ်
သော အပြစ်၊ ထာဝရ ဘုရား၏ ပရောဖက် အ
ပေါင်းကိုသတ်သောအပြစ်အလျောက်၊ ယေဇ
ဗေလ၌ ငါ ဒဏ် ပေးမည်အကြောင်း၊သင်သည်
၈ သင့်သခင်အာဟပ်အမျိုးကိုလုပ်ကြံရမည်။-အာ
ဟပ်အမျိုးသားရှိသမျှတို့ကိုပျက်စီးစေခြင်းငှါ၊
ဣသရေလမြို့၌ အချုပ်ခံသောသူဖြစ်စေ၊ အ
လွှတ်ပြေးသောသူဖြစ်စေ၊ အာဟပ်အမျိုးသား
၉ ယောက်ျားရှိသမျှတို့ကိုငါပယ်ဖြတ်မည်။-အာဟပ်
အမျိုးကိုနေဗတ်၏သားယေရောဗောင်အမျိုးကဲ့
သို့၎င်း၊ အဟိယာ၏သား ဗာရှာအမျိုးကဲ့သို့ ၎င်း
၁၀ ဖြစ်စေမည်။- ယေဇဗေလကို သင်းဂြိုဟ်သော
သူမရှိ၊ယေဇရေလမြေကွက်၌၊ ခွေးတို့သည်သူ
ကို စားကြလိမ့်မည်ဟု မိန့်တော်မူကြောင်းကို၊
၁၁ ဆင့်ဆိုပြီးမှ၊ တံခါးကိုဖွင့်၍ ပြေး၏။- ထို အခါ
ယေဟုသည်မိမိသခင်၏ကျွန်တို့ရှိရာသို့ထွက်၍၊
တယောက်က၊ ရှိသမျှကောင်း၏လော၊ ထိုအရူး
သည် အဘယ်ကြောင့်လာသနည်းဟုမေးလျှင်၊
ယေဟုက၊ သင်တို့သည် ထိုသူကို၎င်း၊ သူပြော
၁၂ သော စကားကို၎င်း သိကြ၏ဟု ဆိုသော်- သူတို့
က၊ငါတို့မသိ၊ပြောပါလော့ဟု ဆိုပြန်သော်၊ယေ
ဟုက၊ ထိုသူသည် ဤမည်သောစကားကို ပြော
၏၊ ထာဝရဘုရားက၊ ငါသည်သင့်ကိုဣသရေလ
ရှင်ဘုရင်အရာ၌ ခန့်ထား၍ ဘိသိတ်ပေးသည်
ဟု၊ မိန့်တော်မူကြောင်းကို ဆင့်ဆိုသည်ဟု ပြန်
၁၃ ပြောသောအခါ- သူတို့သည် အလျင်အမြန်ထ
သဖြင့်၊ အသီးအသီးမိမိတို့ဝတ်လုံကိုယူ၍လှေ
ကားထိပ်ပေါ်၊ ယေဟု အောက်မှာ ခင်းလျက်၊
ယေဟုသည် ရှင်ဘုရင်ဖြစ်တော်မူ၏ဟု၊ တံပိုး
၁၄ မှုတ်၍ကြွေးကြော်ကြ၏။-ထိုသို့နိမ်ရှိသားယော
ရှဖတ်၏သား၊ ယေဟုသည် ယောရံမင်း တစ်ဘက်
ထင်းဖွဲ့လေ၏။ ထိုအခါ ရှုရိရှင်ဘုရင်ဟာဇေလ
ကြောင့်၊ယောရံမင်းနှင့်ဣသရေလလူအပေါင်း
တို့သည် ဂိလဒ်ပြည်ရာမုတ်မြို့ကို စောင့်ရှောက်
၁၅ ကြ၏။- သို့ရာတွင်၊ ယောရံ မင်းသည် ရှုရိ ရှင်
ဘုရင်ဟာဇေလကိုစစ်တိုက်သောအခါ၊ ရှုရိလူ
ထိမိုက်သော အနာကို ပျောက်စေခြင်းငှါ၊ ယေ
ဇရေလမြို့သို့ပြန်သွားနှင့်ပြီ။ယေဟုကလည်း၊
သင်တို့အလိုရှိလျှင်၊ ယေဇရေလမြို့သို့သွား၍၊
သိတင်းကြားပြောရသောသူတစုံတယောက်ကို
၁၆ မြို့ထဲက မထွက်မသွားစေနှင့်ဟုမှာ၏။- ထို
သို့ယောရံမင်းသည် ယေဇရေလမြို့၌ရှိနေသော
ကြောင့်၊ ယေဟုသည်ရထားကိုစီး၍၊ ထိုမြို့သို့
သွား၏။ ထို အခါ ယုဒ ရှင်ဘုရင် အာခဇိ သည်
ထဉ်း၊ယောရံမင်းကိုကြည့်ရှုအံ့သောငှါရောက်
၁၇ လာပြီ။- ယေဇရေလမြို့၌မျှော်စင်ပေါ်မှာစောင့်
သော သူသည်ရပ်လျက်၊ ယေဟုနှင့် လိုက်လာ
သောအလုံးအရင်းကိုမြင်သောအခါ၊လူ အလုံး
အရင်းကို ငါမြင်သည်ဟုဆိုလျှင်၊ ဆီးကြိုခြင်း
ငှါသွား၍၊ငြိမ်သက်ခြင်းရှိသလောဟု မေးမည်
အကြောင်း၊ ယောရံ သည် မြင်း စီး သူ ရဲ အ
၁၈ ယောက်ကိုစေလွှတ်သည်အတိုင်း-မြင်းစီးသူရဲ

သည်၏။ကြိုခြင်းငှါသွား၍၊ ငြိမ်သက်ခြင်းရှိသ
လောထု၊ ရှင်ဘုရင်မေးတော်မူကြောင်းကိုပြော
ဆိုသော်၊ ယေဟုက၊ သင်သည် ငြိမ်သက်ခြင်း
နှင့်အဘယ်သို့ဆိုင်သနည်း။ ငါနောက်သို့လှည့်
၍လိုက်လော့ဟုဆို၏။စောင့်သောသူကလည်း၊
မြင်းစီး သူရဲ သည် အထံ့ အရင်းသို့ ရောက်၍
၁၉ ပြန် မလာပါဟု ဆိုသော်- ရှင်ဘုရင် သည် အ
ခြားသော မြင်းစီးသူရဲတယောက်ကို စေလွှတ်
ပြန်၍၊ သူသည် ရောက်သော အခါ၊ ငြိမ်သက်
ခြင်းရှိသလောဟုရှင်ဘုရင်မေးတော်မူကြောင်း
ကို ပြော ဆို သော်၊ ယေဟု က၊ သင်သည် ငြိမ်
သက်ခြင်းနှင့်အဘယ်သို့ဆိုင်သနည်း။ငါနောက်
၂၀ သို့လှည့်၍လိုက်လော့ဟုဆို၏။- စောင့်သောသူ
ကလည်း၊မြင်းစီးသူရဲသည်ရောက်၍ပြန်မလာ
ပါ။ လာသော သူသည် နိမ်ရှိသား ယေဟု နှင့်
တတ်သကဲ့သို့၊အလွန်ပြင်းထန်စွာနှင်၍လာပါ
၂၁ သည်ဟုဆို၏။- ယောရံမင်းကလည်း၊ မြင်းရ
ထားကိုပြင်ဆင်လော့ဟုဆိုသည်အတိုင်း၊ မြင်း
ရထားကို ပြင်ဆင်ကြ၏။ ဣသရေလ ရှင်ဘုရင်
ယောရံ နှင့် ယုဒ ရှင် ဘုရင် အာခဇိ တို့ သည်
ရထားတော်တစီးစီးထွက်၊ ယေဟုကိုဆီးကြို
မည်ဟု ထွက်သွား၍၊ ယေဇရေလ မြို့သား နာ
၂၂ ဗုတ်၏ မြေကွက်တွင်တွေ့ကြ၏။- ယောရံသည်
ယေဟုကိုမြင်လျှင် ယေဟု၊ ငြိမ်သက်ခြင်းရှိသ
လောဟုမေးသော်၊ ယေဟုက၊ သင့်အမိ ယေဇ
ဗေလပြုသောအဓမ္မမေစုန်အမှု၊ ပြုစားသောအ
မှုများသော ကာလ အတွင်း တွင်၊ အဘယ် သို့
သော ငြိမ် သက်ခြင်း ရှိလိမ့် မည်နည်းဟု ပြန်
၂၃ ပြောသော်- ယောရံကအိုအာခဇိ၊စုန်ကန်မှုပါ
၂၄ တကားဟု ဆိုလျက် လှည့်၍ ပြေး၏။- ယေဟု
သည်လည်း၊လေးကိုတင်၍ပြစ်သဖြင့်၊ယောရံ
ကိုပခုံးကြားမှာမှန်၏။မြားသည်ထည်းနှစ်လုံး
ကို ထုတ်ချင်းဖောက်၍၊ ယောရံသည် ရထား
၂၅ တော်ပေါ်မှာလဲနေ၏။- ယေဟုကလည်း၊ သူကို
ဆွဲ၍ ယေဇရေလမြို့သား နာဗုတ် မြေကွက်၌ ပစ်
ပြစ်လော့၊ သင်နှင့် ငါသည် သူ၏အဘ အာဟပ်
နောက်သို့မြင်းစီး၍လိုက်သောအခါ၊ ဤအမှုကို
ထာဝရဘုရား ဗျာဒိတ် ထားတော် မူသည်ကို မ
၂၆ မှတ်မိသလော။- အကယ်စင်စစ်နာဗုတ်အသွေး၊
သူသားတို့၏အသွေးကိုမနေ့ကငါကြည့်မြင်ပြီ
ဟု၊ ထာဝရဘုရား မိန့်တော်မူ၏။ ဤမြေကွက်၌
သင့်ကိုအပြစ်နှင့်အလျောက်၊ ငါစီရင်ပေးမည်

ဟုထာဝရဘုရားမိန့်တော်မူ၏။ ထိုကြောင့်၊ ထာဝ
ရဘုရား၏ အမိန့်တော် ရှိသည်အတိုင်း၊ ဤမြေ
ကွက်၌ အလောင်းကို ပစ်ချလော့ဟု မိမိရထား
၂၇ မှူးဗိဒကာကိုဆို၏။- ထိုအမှုကိုယုဒရှင်ဘုရင်အာ
ခဇိသည်မြင်လျှင်၊ ဥယျာဉ်စံနန်းလမ်းဖြင့်ပြေး
၏၊ ယေဟုကလည်း၊ သူကိုရထား ပေါ်မှာထိုး
လော့ဟုလိုက်လျက် ဆိုသည်အတိုင်း၊ ဣဗလံမြို့
နား၊ဂုရမြို့သို့သွားသောလမ်းတွင်ပြုကြသဖြင့်၊
၂၈ သူသည်မေဂိဒ္ဒေါမြို့သို့ပြေး၍သေ၏။- သူ၏ကျွန်
တို့သည် အလောင်းကို ရထားပေါ်သို့ တင်ပြီး
လျှင်၊ ယေရုရှလင်မြို့သို့ဆောင်သွား၍၊ ဒါဝိဒ်
မြို့တွင်၊ မိမိသင်္ချိုင်း၌ ဘိုးဘေး တို့ နှင့် အတူ
၂၉ သင်္ဂြိုဟ်ကြ၏။- ထိုမင်း အာခဇိ သည် အာ
ဟပ်သားယောရံနန်းစံ ဆယ်နှစ်နှစ်တွင်၊ ယုဒ
နိုင်ငံ၌နန်းထိုင်၏။
၃၀ ယေဟုသည် ယေဇရေလမြို့သို့ရောက်သည်
ကို ယေဇဗေလသည် ကြားလျှင်၊ မျက်စိတို့
ကိုဆေးသုတ်၍၊ ဆံပင်ကိုတန်ဆာဆင်ပြီးမှ၊ ပြ
၃၁ တင်းပေါက်ဝ၌ ကြည့်ရှုလျက် နေ၏။- ယေဟု
သည်တံခါးဝသို့ဝင်သောအခါယေဇဗေလက၊
မိမိသခင်ကို သတ်သော ဇိမရိသည် ငြိမ်းသာရ
၃၂ သလောဟုမေးလျှင်- ယေဟုသည် မျှော်ကြည့်
၍၊ ငါဘက်မှာအဘယ်သူနေသနည်း။ အဘယ်
သူနည်း မေး လေ သော်၊ မိန်းမိုး နှစ် ယောက် သုံး
ယောက်တို့သည် ပြတင်းပေါက်ထဲက ကြည့်ရှု
၃၃ ကြ၏။- ယေဟုက၊ သူကို တွန်းချ လိုက်ဟု ဆို
သည်အတိုင်းတွန်းချသဖြင့်၊သူ၏အသွေးသည်
နန်းတော် ထရံ အပေါ်၌ငှင်၊ မြင်းတို့ အပေါ်၌
ငှင်စည်၏၊ ယေဟုသည်သူကိုယ်ကိုနင်းလေ၏။
၃၄ အထဲသို့ဝင်၍- စားသောက်ပြီးမှ၊ထိုကျိန်အပ်
သောမိန်းမသည် ရှင်ဘုရင်သမီးဖြစ်သောကြောင့်၊
သွားကြည့်၍ သင်္ဂြိုဟ် လော့ဟု ဆိုသည် အ
၃၅ တိုင်း၊- သင်္ဂြိုဟ် ခြင်းငှါ သွားသော အခါ၊
ဦးခေါင်းခွံ၊ ခြေဖျား၊ လက်ဝါးတို့ကိုသာ တွေ့
သောကြောင့်၊ တဖန်လာ၍ ကြားလျှောက်ကြ
၃၆ ၏။- ယေဟုက၊ ယေဇရေလမြေကွက်၌ ခွေးတို့
သည် ယေဇဗေလ၏ အသားကို စားကြလိမ့်
မည်ဟု၊ ထာဝရဘုရားသည်မိမိကျွန်တိရှဘိမြို့
သား ဧလိယအားဖြင့်၊ မိန့်တော်မူသောစကား
၃၇ တော်သည်ဤသို့ပြည့်စုံပြီ။- သို့ဖြစ်၍၊ ဤသင်း
ချိုင်းသည် ယေဇဗေလ သင်းချိုင်းဖြစ်၏ဟု၊
အဘယ်သူမျှ မပြောနိုင်မည်အကြောင်း၊ သူ၏



 

အထောင်းကောင်သည် ယေဇရေလ မြေကွက်
တွင်၊ လယ်ပြင်၌နေသော်ချေးကဲ့သို့ ရှိရလိမ့်မည်
ဟုဆို၏။

၁၀

၁ အာဟပ်၏ သား ခုနှစ်ကျိပ်တို့ သည် ရှမာရိ
မြို့၌ ရှိသည်ဖြစ်၍၊ ယေဟုသည် ယေဇရေလ
မြို့စုတ်များ၊ အသက်ကြီးသူများ၊ အာဟပ်သား
တို့ကို လုပ်ကျွေးသောသူများရှိရာ၊ ရှမာရိမြို့သို့
၂ စာရေး၍ ပေးလိုက်လေ၏။- မှာလိုက်သောစာ
ချုတ်ဟူမူကား၊ သင်တို့၌ သင်တို့သခင်၏ သား
များ၊ စစ်သူရဲ၊ မြင်းစီးသူရဲများ၊ ခိုင်ခံ့သောမြို့၊
လက်နက်ရှိသည်ဖြစ်၍၊ ဤစာရောက်သောအ
၃ ခါ- သင်တို့သခင်၏သားတို့တွင်၊ သာ၍ကောင်း
မြတ် တော်သင့်သော သူကို ရွေးကောက် ၍၊
ခမည်းတော်၏ရာဇပလ္လင်ပေါ်မှာတင်ပြီးလျှင်၊
သခင်အမျိုးအဖို့စစ်တိုက်ကြလော့ဟုမှာလိုက်
၄ သတည်း။- ထိုသူတို့က၊ ရှင်ဘုရင် နှစ်ပါးတို့
သည် သူ့ရှေ့မှာ မခံမရပ်နိုင်သည်ဖြစ်၍၊ ငါတို့
သည် အဘယ်သို့ ခံရပ် နိုင် မည် နည်းဟု၊ အ
၅ လွန်ကြောက်လျက်ဆိုကြ၏။- နန်းတော်ဝန်၊ မြို့
အုပ်၊ အသက်ကြီးသူ၊ အာဟပ်သားတို့ကိုလုပ်
ကျွေးသောသူတို့ကလည်း၊ ကျွန်တော်တို့သည်
ကိုယ်တော် ကျွန် ဖြစ်ပါ၏။ မိန့်တော်မူသည်အ
တိုင်းပြုပါမည်၊ ကျွန်တော်တို့သည်ရှင်ဘုရင်ကို
မချီးမြှောက်ပါ။ အလိုတော်ရှိသည်အတိုင်း ပြု
တော်မူပါဟု၊ ယေဟုထံသို့ပြန်စာကို ပေးလိုက်
၆ ကြ၏။- ယေဟုကလည်း၊ သင်တို့သည်ငါ၏လူ
ဖြစ်၍၊ စကားကို နားထောင်လျှင်၊ သင်တို့သ
ခင်သားတို့၏ ဦးခေါင်းများကို ယူ၍ ယေဇရေ
လမြို့၊ ငါရှိရာသို့နက်ဖန်နေ့ ယခုအချိန်၌လာကြ
လော့ဟု၊ တဖန်စာပေးလိုက်လေ၏။ ရှင်ဘုရင်၏
သားတော်ပေါင်းခုနှစ်ကျိပ်ရှိသည်ဖြစ်၍၊ လုပ်
ကျွေးသော မြို့သား အကြီးအကဲတို့၌ ရှိကြ၏၊
၇ ထိုစာရောက်သောအခါ၊ ရှင်ဘုရင်၏သားတော်
ခုနှစ်ကျိပ် တို့ ကို ယူ၍ သတ် သဖြင့်၊ ဦးခေါင်း
များကို တောင်းတို့၌ ထည့် ပြီးလျှင်၊ ယေဇရေ
၈ လမြို့၊ ယေဟု ထံသို့ ပေးလိုက် လေ၏။- လုလင်
တယောက် သည်လာ၍၊ ရှင်ဘုရင် သား တို့ ၏
ဦးခေါင်း များကို ဆောင်ခဲ့ ပါပြီ ဟု လျှောက်
လျှင်၊ ယေဟုက၊ မြို့တံခါးဝမှာနံနက်တိုင်အောင်
၉ နှစ် စုပုံ ထား စေဘော့ဟု ဆို၏။- နံနက် ရောက် ၍၊
ယေဟုသည်ထွက်၍ ရပ်လျက်လူများတို့အား၊
ဆို ဖြောင့် မတ် သော လူ တို့၊ ငါ သည် သခင်
အား ပုန်ကန်၍သင်းပွဲ၍သတ်လေပြီ။ ဤလူ အပေါင်း
၁၀ တို့ကိုကား၊ အဘယ်သူသတ်သနည်း။- ထာဝရ
ဘုရားသည် အာဟပ် အမျိုး၌ မိန့်တော်မူသော
စကားတော် တခွန်းမျှ မြေသို့မကျရ ဆည် ကို
သင်တို့ သိမှတ်ကြလော့။ ထာဝရဘုရားသည်
မိမိကျွန် ဧလိယအားဖြင့်၊ မိန့်တော်မူသည် အ
၁၁ တိုင်း၊ ပြုတော်မူမည်ဟုဆိုသဖြင့်- ယေဇရေလ
မြို့၌ ကျန် ကြွင်းသော အာဟပ် အမျိုး သား အ
ပေါင်း တို့ နှင့် သူ ၏ လူကြီး၊ ပေါက်ဖော်၊ ယဇ်
ပုရောဟိတ်အပေါင်းတို့ကိုတယောက်မျှမကျန်
၁၂ စေဘဲသတ်လေ၏။- နောက်မှထ၍ရှမာရိမြို့သို့
သွား၏။ ထမ်း နားမှာ ရှိ သော သိုးမွေး ညှပ် ရာ
၁၃ ဇရပ်သို့ရောက်သောအခါ- ယုဒရှင်ဘုရင်အာခ
ဇိ၏ပေါက်ဖော်တို့ကိုတွေ့လျှင်၊ သင်တို့သည်အ
ဘယ်သူနည်းဟုမေးသော်၊ ငါတို့သည်အာခဇိ
မင်း၏ ဆွေတော် မျိုးတော် ဖြစ်၏။ ရှင်ဘုရင်၏
သားတော်တို့နှင့်မိဖုရား၏သားတော်တို့ကိုနှုတ်
၁၄ ဆက်အံ့သောငှါသွားသည်ဟုဆိုကြ၏။- ယေ
ဟုက ထည်း၊ အရှင် ဖမ်းကြဟု မိန့်သည် အ
တိုင်း၊ အရှင်ဖမ်း၍သိုးမွေးဇရပ်တွင်းနားမှာ၊
လေးကျိပ် နှစ်ယောက် တို့ကို တယောက်မျှ မ
၁၅ ကျန်စေဘဲသတ်ကြ၏။- ထိုဇရပ်မှ ထွက်သော
အခါ၊ ခရိုးဦးကြို ပြုအံ့ဟု လာသောရေခပ်အား
ယောနဒပ်ကိုတွေ့၍နှုတ်ဆက်သဖြင့်၊ ငါ၏နှစ်
လုံးသည် သင့်စိတ်နှစ်လုံးနှင့် သင့်၍ သဘော
ဖြောင့်သကဲ့သို့၊ သင့်စိတ်နှစ်လုံးသည် သဘော
ဖြောင့်သလောဟုမေးလျှင်၊ ဖြောင့်ပါသည်ဟု
လျှောက် ဆိုသော်၊ ထိုသို့မှန်လျှင် သင့်လက်ကို
ပေးပါဟုဆိုသည်အတိုင်း၊ လက်ကိုပေး၍ယေ
ဟုသည် မိမိ အနားသို့ ရထား ပေါ်မှာ ဆွဲ တင်
၁၆ လျက်- ငါနှင့်အတူလိုက်၍ထာဝရဘုရားအတွက်
၌၊ ငါ၏စိတ်အားကြီးကြောင်းကိုကြည့်ရှုလော့ဟု
၁၇ ဆိုသဖြင့်၊ မိမိရထားကိုစီးစေ၏။- ရှမာရိမြို့သို့
ရောက်သောအခါ၊ ထာဝရဘုရားသည် ဧလိယ
အား မိန့် တော် မူ သော စကား တော် အတိုင်း၊
အာဟပ်အမျိုး အကုန်အစင် ပျက်စီးသည်တိုင်
အောင်၊ ထို မြို့၌ ကျန် ကြွင်း သမျှ တို့ ကို သတ်
လေ၏။
၁၈ တဖန် ယေဟုသည် လူအပေါင်းတို့ကို စုဝေး
စေ၍၊ အာဟပ်သည် ဗာလ ဘုရားကို အနည်း
ငယ်သာဝတ်ပြု၏။ ငါယေဟုမူကား များစွာပြု

၁၉ မည်။-သို့ဖြစ်၍၊ဗာလဘုရား၏ပရောဖက်များ၊
အမှုစောင့်များ၊ ယဇ်ပုရောဟိတ်များ အပေါင်း
တို့ကိုခေါ်ကြ၊ တယောက်မျှမကြွင်းစေနှင့်၊ ငါ
သည် ဗာလ ဘုရား အား ယဇ် ကြီး ကို ပူဇော်
မည်၊ ကြွင်းသောသူ မည်သည်ကား၊ အသက်
မရှင်ရဟု ဆို၏၊ ထိုသို့ဆိုသော်၊ ဗာလကို ကိုး
ကွယ် သော သူတို့ ကို ဖျက် ဆီး မည် အကြံ နှင့်
၂၀ ပရိယာယ်ပြု၍ ဆို၏။- ဗာလဘုရားအဘို့ဓမ္မပွဲ
ကိုပြင်ဆင်ကြဟု တဖန်စီရင်သည်အတိုင်း၊ ဓမ္မ
၂၁ ပွဲကိုစောင့်ရမည်ဟုကျော်ညာကြ၏။- ဣသရေ
လပြည် တရှောက်လုံးသို့စေလွှတ်၍၊ ဗာလတ
ပည့်ရှိသမျှတို့သည် တယောက်မျှမကြွင်း လာ
ကြ၏၊ ဗာလ ကျောင်းထဲသို့ ဝင်ကြသဖြင့်၊ တ
၂၂ ကျောင်းလုံး ပြည့်လျှက်ရှိ၏။- ယေဟုသည် အ
ဝတ်တန်ဆာ တိုက်မှူးကို ခေါ်၍၊ ဗာလဘုရား
တပည့်တို့အဘို့ အဝတ်တန်ဆာကို ထုတ်ကြဟု
၂၃ ဆိုသည် အတိုင်း ထုတ် ပေ၏။- တဖန် ရေခပ်
သား ယောနဒပ်နှင့် အတူ ဗာလကျောင်းထဲသို့
ဝင်၍၊ သင်တို့သည် ထာဝရ ဘုရား တပည့် တ
ယောက်မျှမပါ၊ဗာလဘုရားတပည့်သက်သက်
ရှိစေမည့်အကြောင်း၊ကြည့်ရှုစစ်ကြောကြလော့
၂၄ ဟု၊ ဗာလတပည့်တို့အားဆို၏။- မီးရှို့ရာယဇ်
အစရှိသောယဇ်မျိုးကိုပူဇော်ခြင်းငှါ၊အထဲသို့
ဝင်သောအခါ၊ ယေဟုသည်ကျောင်းပြင်၌လူ
ရှစ်ကျိပ်ကိုထား၍၊ သင်တို့လက်သို့ငါအပ်နှံ
သော ဤသူတို့တယောက်မျှလွတ်လျှင်၊ လွတ်
စေသောသူသည်အသက်သေရမည်ဟု စီရင်၍-
၂၅ မီးရှို့ရာယဇ်ကို ပူဇော်မှုပြီးသောအခါ၊ယေဟု
က၊ ဝင်၍ သတ်ကြလော့၊ တယောက် ကိုမျှ မ
ထွက်စေနှင့်ဟု၊တပ်သားနှင့်တပ်မှူးတို့အားဆို
သည် အတိုင်း၊ တပ်သားနှင့်တပ်မှူး တို့ သည်
ထားနှင့်လုပ်ကြံ၍၊အသေကောင်များကို ထုတ်
၂၆ ပြစ် ပြီး မှ- ဗာလ ကျောင်း နှင့် ဆိုင်သော မြို့သို့
သွား ၍၊ ဗာလ ကျောင်း ထဲက ရုပ်တု များ ကို
၂၇ ထုတ် ပြီးလျှင် မီး ရှို့ ကြ ၏။- ဗာလ ဆင်းတုကို
ဖျက်၊ကျောင်းကိုဖြိုဖျက်၍၊ယနေ့တိုင်အောင်
၂၈ ကိုယ်ထိ သုတ် သင်ရာ အိမ် ဖြစ်စေကြ၏။- ထိုသို့
ယေဟုသည် ဗာလကို ဣသရေလ ပြည်မှ ပယ်
ရှားဖျက်ဆီးလေ၏။
၂၉ ထိုရာတွင်၊ ဣသရေလ အမျိုးကို ပြစ်မှားစေ
သော နေဗတ် သား ယေ ရော ဗောင် ၏ ဒုစ ရိုက်
တည်းဟူသော၊ဗေသေလမြို့နှင့်ဒန်မြို့မှာရှိသော

၃၀ ရွှေနွား၊ သငယ်တို့ကိုမစွန့်။- ထာဝရ ဘုရားက
လည်း၊ သင်သည် ငါ့ရှေ့မှာ ဖြောင့်သောအကျင့်
ကိုကျင့်၍၊ ကောင်းမွန်စွာ ပြုသောကြောင့်၊ ငါ့
ငါအလိုရှိသမျှအတိုင်း၊ အာခပ်အမျိုး၌ စီရင်
သောကြောင့်၊ သင့်သားမြေးလေးဆက်တိုင်
အောင်၊ ဣသရေလနိုင်ငံရာဇပလ္လင်ပေါ်မှာထိုင်
ရမည်ဟု၊ယေဟုအားမိန့်တော်မူသော်လည်း။-
၃၁ ယေဟုသည် ဣသရေလ အမျိုး၏ ဘုရားသခင်
ထာဝရ ဘုရား တရား တော် လမ်းသို့၊ စိတ် နှ
လုံးအကြွင်းမဲ့ လိုက်ခြင်းငှါ သတိမပြု၊ ဣသရေ
လအမျိုးကို ပြစ်မှားစေသောယေရောဗောင်၏
ဒုစရိုက်တို့ကိုမစွန့်။
၃၂ ထိုကာလတွင်၊ ထာဝရဘုရားသည် ဣသရေ
၃၃ လပြည် စွန်းတို့ကို ဖြတ်တော်မူ၏၊ ဟာဇေလ
သည်ယော်ဒန်မြစ်အရှေ့ဘက်၊ဂိလဒ်အမျိုး၊ရုဗင်
အမျိုး၊ မနာရှေအမျိုးနေရာ၊ အာနုန်မြစ်နား၌ရှိ
သော အာရော်မြို့မှစ၍ ဂိလဒ်ပြည်၊ ဗာရှန်ပြည်
တရှောက်လုံးအရပ်ရပ်တို့ကိုလုပ်ကြံလေ၏။
၃၄ ယေဟု ပြုမူသော အမှု အရာ ကြွင်းသော အမှု
တို့နှင့်၊ တန်ခိုးကြီးခြင်းအရာသည်၊ ဣသရေလ
၃၅ ရာဇဝင်၌ရေးထားလျက်ရှိ၏။- ယေဟုသည်ရှ
၃၆ မာရိမြို့၌မင်းပြု၍၊ ဣသရေလနိုင်ငံကိုနှစ်ဆယ်
ရှစ်နှစ်စိုးစံပြီးမှ၊ ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊ရှ
မာရိမြို့၌သင်းဂြိုဟ်ခြင်းကိုခံလေ၏၊သားတော်
ယောခတ်သည်ခမည်းတော်အရာ၌နန်းထိုင်၏။

၁၁

၁ အာခဇိ၏မယ်တော် အာသလိသည်မိမိသား
သေ ကြောင်းကို သိမြင်သော်၊ ထ၍ ဆွေတော်
မျိုးတော်အပေါင်းတို့ကိုသုတ်သင်ပယ်ရှင်းလေ
၂ ၏။- ထိုရာတွင်၊ အာခဇိ၏နှမ၊ယောရံမင်း
ကြီး၏သမီး၊ ယောရှေဘသည် အာခဇိ၏သား ယော
ရှကို အသေ ခံရ သော ဆွေ တော် မျိုး တော်ထဲ
က ခိုး ယူ ၍၊ အာသလိ လက်မှ သူ ၏ အ သက်
လွတ်စေခြင်းငှါ၊ သူနှင့်သူ၏နို့ထိန်းကိုအိပ်ခန်း
၃ ထဲ၌ ဝှက် ထား ၏။- ထို နောက်၊ ယောရှ သည်
ခြောက်နှစ်ပတ်လုံးအရီးနှင့်အတူ ဗိမာန်တော်
၌ ဝှက်၍ နေလျက်၊ အာသလိ သည် မင်း
ပြုလေ၏။
၄ ခုနစ်နှစ်မြောက်သောအခါ၊ ယောယဒသည်
စေလွှတ်၍၊ လူတရာအုပ်၊ တပ်မှူး၊ တပ်သားတို့
ကိုခေါ်ပေ၏၊ ဗိမာန်တော်ထဲသို့သွင်း၍၊ ပဋိ
ညာဉ်ဖွဲ့ခြင်း၊ ဗိမာန်တော်၌ကျမ်းသစ္စာဆိုစေခြင်း

ကိုပြုပြီးမှ၊ ရှင်ဘုရင်၏သားတော်ကိုပြလေ၏။-
၅ ယောယဒကလည်း၊ သင်တို့ပြုရသောအမှုဟူမူ
ကား၊ ဥပုသ်နေ့၌ဝင်သောလူ သုံးစုတစုသည်
၆ နန်းတော်တံခါးကိုစောင့်ရမည်။- တစုသည်သု
ရတံခါးကိုစောင့်ရမည်၊ တစုသည်ကင်းနောက်
တံခါးကို စောင့်ရမည်၊ ထိုသို့ဗိမာန်တော်ကို မ
၇ ပြိုမပျက်စေခြင်းငှါ စောင့်ရမည်။- ဥပုသ်နေ့၌
ထွက်သော လူသုံးစုတွင်၊ နှစ်စုသည် ရှင်ဘုရင်
၈ ဖက် ထည် ဗိမာန် တော်၌ စောင့်ရမည်။- လူ
တိုင်း မိမိ လက်နက်ကို ကိုင်လျက်၊ ကိုယ်တော်
မြတ်ကို ဝိုင်း၍၊ တပ်ထဲသို့ ဝင်သမျှသော သူတို့
ကိုသတ်ရမည်၊ ရှင်ဘုရင်ထွက်ဝင်တော်မူသော
အခါ၊ နောက်တော်သို့ လိုက်ရမည်ဟု မှာထား
၉ လေ၏။- ထိုသို့ ယဇ်ပုရောဟိတ် ယောယဒမှာ
ထားသမျှအတိုင်း၊ လူတရာ အုပ်တို့သည် ပြု၍၊
ဥပုသ်နေ့၌ ထွက်ရသောသူနှင့် ဝင်ရသောသူအ
သီးအသီးတို့ကိုခေါ်၍၊ ယဇ်ပုရောဟိတ် ယော
၁၀ ယဒထံသို့ရောက်သောအခါ- ဗိမာန်တော်၌ရှိ
သောဒါဝိဒ် မင်းကြီး၏ လှံများနှင့် ဒိုင်းများကို
ယဇ်ပုရောဟိတ်သည် ထုတ်၍၊ လူတရာအုပ်တို့
၁၁ အား အပ်လေ၏။- စောင့်သောသူ အပေါင်းတို့
သည်လက်နက်ကိုကိုင် လျက်၊ ရှင်ဘုရင် ကို ဝိုင်း
၍ယဇ် ပလ္လင်အနားနှင့်ဗိမာန် တော် အနား၌
လက်ျာထောင့်မှစ၍ လက်ဝဲထောင့်တိုင်အောင်
၁၂ ရပ်ကြ၏။- ယဇ် ပုရော ဟိတ် သည် ရှင် ဘုရင်
သား တော် ကို ပြင် သို့ ထုတ်၍၊ ရာဇ သရဖူ နှင့်
ပညတ်တို ကျမ်း ကို တင် လျက်၊ ဘိသိတ် ပေး
လျက်၊ ရှင်ဘုရင်အရာ၌ ချီးမြှောက်ပြီးမှ၊ ရှင်ဘု
ရင် အသက်တော်ရှင်စေသတည်းဟု၊ လက်ခုပ်
တီး၍ကြွေးကြော်ကြ၏။
၁၃ အာသလိသည်တပ်သားပြုသောအသံ နှင့်လူ
များ ပြုသော အသံကို ကြားလျှင်၊ လူများ ရှိရာ
၁၄ ဗိမာန် တော်သို့ သွား၍- ရှင်ဘုရင်သည် ယုဇ
မင်း ထုံး စံ အတိုင်း၊ တိုင် နားမှာ ရပ် လျက်၊ မှူး
တော်မတ်တော်များနှင့် တံပိုး မှုတ်သော သူများ
တို့သည်ရှင်ဘုရင်အနားတော်၌ရပ်လျက်၊ပြည်
သူပြည်သား များတို့ သည် ဝမ်းမြောက်၍၊ တံ
ပိုးမှုတ်လျက်ရှိကြသည်ကိုမြင်လျှင်၊ မိမိအဝတ်
ကိုဆုတ်၍ ပုန်ကန်မှုပါတကား၊ ပုန်ကန်မှုပါ
၁၅ တကားဟုအော်ဟစ်လေ၏။- ယဇ်ပုရောဟိတ်
ယောယဒ ကလည်း၊ ဗိမာန်တော် ထဲမှာ မသေ
စေနှင့်၊ တပ်ပြင်သို့ ထုတ် ကြ၊ သူ ထက် မှာ လေ
သော သူကို ထားနှင့် သတ် ကြလော့ဟု တရာအုပ်၊
၁၆ တပ်မှူး တို့ကို မှာထားနှင့်သည် အတိုင်း၊- အာ
သလိကိုဖမ်းဆီးလျက်၊ နန်းတော်သို့သွားသော
မြင်းထမ်းဖြင့်ထုတ်၍သတ်ကြ၏။
၁၇ ယောယဒသည်လည်းရှင်ဘုရင်နှင့်လူများတို့
သည်ထာဝရဘုရား၏လူဖြစ်ရမည်အကြောင်း၊
ထာဝရ ဘုရားနှင့် ပဋိညာဉ်ဖွဲ့စေ၏၊ တဖန်ရှင်
ဘုရင်နှင့် လူများတို့ကို တဦးနှင့်တဦး ပဋိညာဉ်
၁၈ ဖွဲ့စေ၏။- ပြည်သူပြည်သား အပေါင်းတို့သည်
ဗာလ ကျောင်းသို့ သွား၍ ဖြိုဖျက်ကြ၏၊ ယဇ်
ပလ္လင်များနှင့်ရုပ်တုများကို အကုန်အစင်ချိုးဖဲ့
၍၊ ယဇ်ပလ္လင်တို့ရှေ့မှာဗာလယဇ်ပုရောဟိတ်
၁၉ မဿန်ကို သတ်ကြ၏။- ယဇ်ပုရောဟိတ်ယော
ယဒ သည် လည်း၊ ဗိမာန် တော် အုပ် များ ကို
ခန့်ထားပြီးမှ၊ လူတရာအုပ်၊ တပ်မှူး၊ တပ်သား၊
ပြည် သူပြည် သား အပေါင်း တို့ကို ခေါ်လျက်၊
ကင်းတံခါးလမ်းဖြင့်ရှင်ဘုရင်ကိုဗိမာန်တော်
မှနန်းတော်သို့ပို့ဆောင်၍၊ ရာဇပလ္လင်တော်ပေါ်
၂၀ မှာထိုင်စေ၏။- နန်းတော် နားမှာ အာသလိကို
သတ် ပြီးမှ၊ ပြည်သူပြည်သားအပေါင်းတို့သည်
ဝမ်း မြောက် ၍ တမြို့လုံး၌ ထည်း ငြိမ် ဝပ်ခြင်း
ရှိ၏။

၁၂

၁ ယောရှ နန်းစံခုနှစ်နှစ်တွင်၊ ယောရှသည်အ
သက်ခုနှစ်နှစ်ရှိသော်၊ နန်းထိုင်၍ယေရုရှလင်
မြို့၌ အနှစ်လေးဆယ် စိုးစံ၏၊ မယ်တော်ကား
၂ ဗေရရှေဘ မြို့သူ ဇိဗိ အမည် ရှိ၏။- ယဇ်ပုရော
ဟိတ်ယောယဒ သွန်သင်သောကာလ ပတ်လုံး၊
ယောရှ သည် ထာဝရ ဘုရား ရှေ့တော်၌ တရား
၃ သောအမှုကိုပြု၏။- သို့ရာတွင်၊ မြင့်သော အရပ်
တို့ကို မပယ် ရှားသေးကြောင့်၊ လူတို့သည် ထို
အရပ်တို့၌ ယဇ် ပူဇော်၍၊ နံ့သာပေါင်းကိုမီးရှို့
ကြ၏။
၄ ယောရှ မင်းက လည်း၊ ဗိမာန် တော် ထဲသို့
သွင်းသော အလှူ ဥစ္စာကို ရောင်း၍ ရသော ငွေ၊
စာရင်း ဝင်သော သူ တိုင်း ကိုယ် အ တွက် ပေး
သောငွေ၊ ကိုယ်ဘိုးပြတ်၍ရသောငွေ၊ အလိုလို
၅ လှူသောငွေရှိသမျှကို- ယဇ်ပုရောဟိတ်တို့သည်
မိမိတို့ အသိ အကျွမ်း လူထည် အတိုင်း ခံယူ၍၊
ဗိမာန်တော်ပြို ပျက်ရာရှိသမျှ တို့ကို ပြုပြင်ကြ
စေဟု၊ ယဇ်ပုရောဟိတ်တို့အား မိန့်တော်မူ၏။-
၆ ထိုသော်လည်း၊ ယောရှမင်းကြီး နန်းစံနှစ်ဆယ်

သုံးနှစ်တွင်၊ ယဇ်ပုရောဟိတ်တို့သည် မိတ်မှန်
၇ တော် ပြိုပျက် ရာတို့ကို မပြုပြင်ကြသေး၊ ထိုအ
ခါယောရှမင်းကြီးသည်ယဇ်ပုရောဟိတ်ယော
ယဒနှင့်အခြားသောယဇ်ပုရောဟိတ်တို့ကိုခေါ်
၍၊ သင်တို့သည် မိတ်မှန်တော် ပြိုပျက်ရာတို့ကို
အဘယ် ကြောင့် မ ပြု ပြင် ဘဲ နေ ကြ သ နည်း။
နောက်တဖန်အသိအကျွမ်းလှူသောငွေကိုကိုယ်
ထိုင်မယူကြနှင့်၊ မိတ်မှန်တော် ပြိုပျက်ရာတို့ကို
ပြုပြင်ဖို့ရာ အပ်ကြလော့ဟု ဆိုသည် အတိုင်း၊—
၈ ယဇ်ပုရောဟိတ် တို့သည် နောက်တဖန် လူများ
လှူသော ငွေကိုမခံရ၊ မိတ်မှန်တော် ပြို ပျက် ရာ
၉ တို့ကိုလည်းမပြုပြင် ရထုဝန်ခံကြ၏။— ယဇ်ပုရော
ဟိတ်ယောယဒသည်သစ်တာကိုယူ၍၊ အဖုံးကို
ဖောက် ပြီးလျှင်၊ မိတ်မှန်တော်အထဲသို့ဝင်သော
ထမ်းတက်ခါထက်၊ ယဇ်ပလ္လင်နားမှာထားလေ
၏။ မိတ်မှန်တော် သို့ဆောင်ခဲ့သောငွေရှိသမျှကို၊
တံခါးစောင့်ယဇ်ပုရောဟိတ်တို့သည် သစ်တာ
၁၀ ထဲမှာထားကြ၏။—ငွေများသည်ကိုသိမြင်လျှင်၊
ရှင်ဘုရင်၏ စာရေး တော် ကြီးနှင့် ယဇ် ပုရော
ဟိတ်မင်းသည်လာ၍၊ မိတ်မှန်တော်၌ ရှိသော
၁၁ ငွေကို ထုပ်ထားလျက် စာရင်းယူ၏။— ထိုသို့ချိန်
ထားသော ငွေကို မိတ်မှန်တော်အုပ်၊ အမှုတော်
စောင့်တို့၌အပ်၍၊ မိတ်မှန် တော်၌ အလုပ် လုပ်
၁၂ သော လက်သမား၊— ပန်းရန် သမား၊ ကျောက်
ထစ်သမားတို့အတွက်၊ မိတ်မှန်တော်ပြိုပျက်ရာ
ကိုပြုပြင်စရာ ကျောက်နှင့် သစ်သားကို ဝယ်၍၊
၁၃ ကုန်သမျှသောအတွက် ပေးဝေကြ၏။— မိတ်မှန်
တော်အဖို့ငွေဖလား၊ မီးညှပ်၊ အင်တုံ၊ တံပိုး၊ ရွှေ
တန်ဆာ၊ ငွေ တန်ဆာ တို့ ကို ထိုငွေ နှင့် မလုပ်
၁၄ သေး။— အလုပ်လုပ်သော်သူတို့အားသာပေး၍၊
၁၅ မိတ်မှန်တော်ကိုပြုပြင်ကြ၏။—အလုပ်လုပ်သော
သူတို့အားပေးစေခြင်းငှါ၊ ငွေကိုလက်ခံသောသူ
တို့သည်သစ္စာစောင့်သောသူဖြစ်သောကြောင့်၊
၁၆ စာရင်း မပေးကြ။— ဒုစရိုက်ငွေ၊ အပြစ် ငွေကို မူ
ကား၊ မိတ်မှန်တော်သို့ မသွင်းဘဲ ယဇ်ပုရော
ဟိတ်တို့သည်ယူကြ၏။
၁၇ ထိုအခါ ရှုရိရှင်ဘုရင်ဟာဇေလသည်၊ ဂါသ
မြို့ကိုစစ်ချီ၍တိုက်ယူပြီးမှ၊ ယေရုရှလင်မြို့သို့ ချီ
၁၈ ခိုသောငှါ အား ထုတ် သော်၏။— ယုဒ ရှင်ဘုရင်
ယောရှ သည် ဘိုး တော် ဘေး တော် တည်း ဟူ
သောယုဒရှင်ဘုရင်ယောရှဖတ်၊ ယောရံ၊ အာ
ခဇိ ရှုထမှုသော တန် ဆာနှင့် ကိုယ်ထိုင် သန့်
ရှင်းစေ ထမှုသော တန်ဆာ များ၊ မိတ်မှန်တော်
ဘဏ္ဍာ၊ နန်းတော်ဘဏ္ဍာတွင်တွေ့သမျှသောရွှေ
ကိုယူ၍၊ ရှုရိရှင်ဘုရင်ဟာဇေလထံသို့ပေးလိုက်
သောကြောင့်၊ ဟာဇေလသည် ယေရု ရှလင်မြို့
၁၉ ကိုထား၍သွား၏။-ယောရှပြုမူသောအမှုအရာ
ကြွင်းသေ သမျှတို့သည်ယုဒရာဇဝင်၌ရေးထား
၂၀ လျက်ရှိ၏။— ထိုမင်း၏ကျွန် ရှိမတ်သား ယောဇ
ဗဒ်နှင့် ရှိုမပိတ်သား ယေဟောဇဗပ် တို့သည်ထ
၍သင်းဖွဲ့ပြီးလျှင်၊ သိလ္လာသို့သွားသောအမိ
မိလ္လောစံနန်းတွင်ယောရှကိုသတ်ကြ
၂၁ ၍- ထိုးတော်တို့နှင့် အတူ ဒါဝိဒ် မြို့၌ သင်းဂြိုဟ်
ကြ၏။ သားတော် အာမဇိသည်ခမည်းတော်အ
ရာ၌နန်းထိုင်၏။

၁၃

၁ ယုဒရှင်ဘုရင် အာခဇိသားယောရှနန်းစံနှစ်
ဆယ်သုံးနှစ်တွင်၊ ယေဟုသားယောခတ်သည်
ရှမာရိမြို့၌မင်းပြု၍၊ ဣသရေလ နိုင်ငံကို ဆယ်
၂ ခုနစ်နှစ်စိုးစံ၏။-ထိုမင်းသည်ထာဝရဘုရားရှေ့
တော်၌ဒုစရိုက်ကိုပြု၍၊ ဣသရေလအမျိုးကိုပြစ်
မှားစေသော နေဗတ်သား ယေရောဗောင်၏ ဒုစ
၃ ရိုက် အ ပြစ် တို့ ကို မရှောင်၊ လိုက် သော်၏။— ထို
ကြောင့် ထာဝရဘုရားသည် ဣသရေလ အမျိုး
ကို အမျက်ထွက်၍၊ ယော ခတ်မင်း၊ လက်ထက်
ကာလပတ်လုံး၊ ရှုရိရှင်ဘုရင် ဟာဇေလနှင့်သူ
၏သားဗင်္ဟာဒဒ် လက် သို့ ဣသရေလအမျိုးကို
၄ အပ် တော်မူ၏။— တဖန်ယောခတ်သည် ထာဝရ
ဘုရားကိုတောင်းပန်လေ၏။ ရှုရိရှင်ဘုရင်ညှဉ်း
ဆဲ၍၊ ဣသရေလအမျိုးသည်အတွန်ခံရကြောင်း
ကို၊ ထာဝရဘုရားသည်မြင်၍ ယောခတ်စကား
၅ ကိုနား ထောင် တော်မူ၏။— ရှုရိ ရှင်ဘုရင် သည်
ဣသရေလအမျိုးသားတို့ကို ဖျက်ဆီး၍၊ စပါး
နင်းရာတွင်ထွင့်သောအမှုန့်ကဲ့သို့ဖြစ်စေသဖြင့်၊
မြင်းစီးသူရဲ ငါးကျိပ်၊ ရထားတဆယ်၊ ခြေသည်
သူရဲ တသောင်းကိုသာယောခတ်၌ကြွင်းစေ၏။—
၆ ထိုကြောင့်ထာဝရဘုရားသည် ကယ်တင်သော
သခင်ကို ပေးတော်မူသဖြင့်၊ ဣသရေလ အမျိုး
သားတို့သည်ရှုရိလူတို့လက်မှထွက်မြောက်၍၊
အထက်ကနည်းတူ မိမိတို့ နေရာ၌ နေရ ကြ၏။—
၇ သို့ရာတွင်၊ ဣသရေလအမျိုးကိုပြစ်မှားစေသော
ယေရောဗောင် ပင်းမျိုး၏ ဒုစရိုက်အပြစ် တို့ကို
မရှောင်၊ လိုက်ကြ၏၊ ရှမာရိမြို့၌လည်း၊ အာရှရ
ပင် ရှိသေး၏။— ယော ခတ် ပြု မူသော အမှု အရာ

ကြွင်းလေသမျှ ထို့နှင့်၊ တန်ခိုး ကြီးခြင်း အရာ
သည် ဣသရေလ ရာဇဝင်၌ ရေးထားလျက် ရှိ
၉ ၏။-ယောခတ်သည်ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊
ရှမာရိ မြို့၌ သင်းဂြိုဟ် ခြင်း ကို ခံလေ၏။ သား
တော်ယောရှသည် ခမည်းတော်အ ရာ၌ နန်း
ထိုင်၏။
၁၀ ယုဒ ရှင်ဘုရင် ယောရှ နန်းစံ သုံးဆယ် ခုနစ်
နှစ်တွင်၊ယောခတ်သား ယဟောရှသည်ရှမာရိ
မြို့၌မင်းပြု၍၊ ဣသရေလနိုင်ငံကို ဆယ်ခြောက်
၁၁ နှစ်မိုးစံ၏။-ထိုမင်းသည်ထာဝရဘုရားရှေ့တော်
၌ရုစရိုက်ကိုပြု၍၊ ဣသရေလ အမျိုးကိုပြစ်မှား
စေသောနေဗတ် သား ယေရောဗောင်၏ဒုစရိုက်
အပြစ်ကို မရှောင်၊ အကုန်အစင် လိုက် လေ၏။-
၁၂ ယဟောရှပြုမူသော အမှုအရာ ကြွင်းလေသမျှ၊
ယုဒရှင်ဘုရင် အာမဇိကိုစစ်တိုက်ရာတွင်၊ တန်
ခိုး ကြီးခြင်း အရာသည် ဣသရေလ ရာဇဝင်၌
၁၃ ရေးထားလျက်ရှိ၏။- ယဟောရှသည်ဘိုးဘေး
တို့နှင့် အိပ်ပျော်၍၊ ဣသရေလ ရှင်ဘုရင်တို့နှင့်
အတူ ရှမာရိ မြို့၌ သင်း ဂြိုဟ်ခြင်းကို ခံလေ၏။
သားတော်ယေရောဗောင်သည်ခမည်းတော်အ
ရာ၌နန်းထိုင်၏။
၁၄ ထိုအခါ ဧလိရှဲသည် သေနာ စွဲ၍ နာနေ စဉ်
တွင်၊ဣသရေလ ရှင်ဘုရင်ယဟောရှသည်လာ
၍၊ သူ့ရှေ့မှာငိုကြွေးလျက် ငအဖ၊ ငအဖ၊ ဣသ
ရေလရထား၊ ဣသရေလမြင်းပါတကားဟုဆို
၁၅ ၏။ ဧလိရှဲကလည်း၊လေးနှင့်မြားတို့ကိုယူလော့
၁၆ ဟုဆိုသည် အတိုင်း ရှင်ဘုရင်ယူ၏။- လေးကို
တင်လော့ဟု တဖန် ဆိုသည် အတိုင်း၊ လေးကို
တင်၍၊ ဧလိရှဲသည်မိမိလက်ကိုရှင်ဘုရင်လက်
၁၇ ပေါ်မှာတင်လျက်၊-အရှေ့ပြတင်းပေါက်ကိုဖွင့်
လော့ဟု ဆို၍ဖွင့်လေ၏။ ပစ်လော့ဟုဆိုသည်
အတိုင်း၊ ရှင်ဘုရင် သည် ပစ်လေ၏။ ဧလိရှဲက
လည်း၊ ထာ ဝရ ဘု ရား ကယ် တင် တော်မူ ရာ
မြား၊ ရှုရိမင်းလက်မှကယ်နုတ်ရာမြားဖြစ်၏။
အာဖက်မြို့၌ ရှုရိလူတို့ကို အကုန်အစင်လုပ်ကြံ
၁၈ ရလိမ့်မည်ဟု ဆို၏။-မြားတို့ကိုယူဦးလော့ဟုတ
ဖန်ဆိုသည်အတိုင်း၊ ရှင်ဘုရင်သည်ယူ၏။ မြေ
ပေါ်သို့ရိုက်လော့ဟု ဆို၍ သုံးကြိမ်ရိုက်လေ၏။-
၁၉ ထိုအခါဘုရားသခင်၏လူသည်အမျက်ထွက်၍၊
အ ထပ်ကြောင့် ငါး ကြိမ် ခြောက်ကြိမ် မရိုက်
သနည်း။ ထိုသို့ ရိုက်လျှင်၊ ရှုရိလူတို့ကို အကုန်
အစင် လုပ်ကြံ ရလိမ့်မည်၊ ယခု မူကား၊ သုံး
၂၀ ကြိမ်သာ လုပ်ကြံရလိမ့်မည်ဟု ဆို၏။- ဧလိရှဲ
သေ၍ သင်းဂြိုဟ်ခြင်းကို ခံပြီးမှ၊ နောင်နှစ်တွင်
မောအ တပ်သား၊ တို့သည် ဣသရေလ ပြည်ကို
၂၁ တိုက်လာကြ၏။-ဣသရေလလူ တို့သည် လူအ
လောင်းကို သင်း ဂြိုဟ် စဉ် တွင်၊ မောအ တပ်
သားသည်ကို မြင်၍၊ အလောင်းကို ဧလိရှဲ သင်း
ဂြိုဟ်၊ တွင်း၌ ချထားကြ၏။ သေသော သူ အညီ
အောက် သို့ ရောက် ၍၊ ဧလိရှဲ အ ရိုး ထိုက်လို ထိ
သောအခါ၊ အ သက် ရှင်ပြန် သဖြင့် မတ် ထတ်
ထ၏။
၂၂ ရှုရိ ရှင် ဘုရင် ဟာ ဇေ ထ သည် ယော ခတ်
လက်ထက်ကာလပတ်လုံး၊ ဣသရေလအမျိုးကို
၂၃ ညှဉ်းဆဲ၏။- ထာဝရဘုရားသည် သူတို့ကိုသ
နားစုံမက်၍အာဗြဟံ၊ ဣဇာက်၊ ယာကုပ်တို့နှင့်
ဖွဲ့တော်မူခဲ့သောပဋိညာဉ်ကိုထောက်ရှုလျက်၊
သူတို့ကို မ ဖျက် ဆီး၊ အထံ တော်မှ မနှင် ထုတ်
၂၄ သေးဘဲကြည့်ရှု ပြုစုတော်မူ၏။- ရှုရိရှင်ဘုရင်
ဟာဇေလ သေ၍၊ သားတော် ဗင်္ဟာဒဒ် သည်
၂၅ ခမည်း တော် အ ရာ၌ နန်း ထိုင်၏။- ယောဇေထ
သည်စစ်တိုက်၍၊ယောခတ်မင်းလက်မှ နုတ်ယူ
သော မြို့ရွာ တို့ကို၊ ယော ခတ်သား ယဟောရှ
သည် ဟာဇေလ သား ဗင်္ဟာဒဒ် လက်မှ တဖန်
နုတ်ယူ၏။သုံးကြိမ်တိုင်အောင်ယဟောရှသည်
နိုင်၍၊ဣသရေလ မြို့ရွာတို့ကိုရပြန်လေ၏။

၁၄

၁ ဣသရေလရှင်ဘုရင်ယောခတ်သား ယဟော
၂ ရှနန်းစံ နှစ်နှစ်တွင်၊- ယုဒရှင်ဘုရင်ယောရှသား
အာမဇိသည်အသက်နှစ်ဆယ် ငါးနှစ် ရှိသော်၊
နန်းထိုင်၍ ယေရုရှလင်မြို့၌ နှစ်ဆယ်ကိုးနှစ်မိုး
စံ၏။ မယ်တော် ကား၊ ယေရုရှလင်မြို့သူ ယုဒ္ဒန်
၃ အမည်ရှိ၏။- ထို မင်း သည် ထာဝရ ဘုရား ရှေ့
တော်၌တရားသောအမှုကိုပြုသော်လည်း၊ အဘ
ဒါဝိဒ်၏အကျင့်ကိုမမှီ၊ ခမည်းတော်ယောရှပြုသ
၄ မျှအတိုင်းပြု၏။- သို့ရာတွင်၊ မြင့်သောအရပ်တို့
ကိုမပယ်ရှားသောကြောင့်၊လူတို့သည်ထိုအရပ်
တို့၌ယဇ်ပူဇော်၍နံ့သာပေါင်းကို မီးရှို့ကြ၏။
၅ သာမဇိသည် မင်းအာဏာတည်သောအခါ၊
ခမည်းတော်မင်းကြီးကို သတ်သော ကျွန်တို့ကို
၆ သတ်လေ၏။- သားအတွက်အဘသည်အသေမ
ခံရ၊ အဘအတွက် သားသည် အသေမခံရ၊ လူ
တိုင်းမိမိအပြစ်ကြောင့်အသေခံရ၏ဟု၊ မောရှေ
ပညတ္တိ ကျမ်းစာ၌ ရေးထားလျက်ရှိသော ထာ

ဝရ တရား၏ ပညတ်တော်ကို စောင့်ရှောက်၍၊
ခမည်းတော်ကို သတ်သောသူတို့၏သားများကို
မသတ်ဘဲနေ၏။
၇ အာမဇိမင်းသည် ဧဒုံအမျိုးသားတသောင်း
ကိုဆားချိုင့်၌သတ်၍ သေလမြို့ကိုတိုက်ယူ၍၊
ယနေ့တိုင်အောင် ယုက္ထေလ ဟူ၍ သမုတ်ဝေ
၈ ၏။- ထိုအခါ ဣသရေလ ရှင်ဘုရင် ယေဟုမြေး
ယောခတ်၏သား၊ ယောရှထံသို့ သံတမန် ကို
စေလွှတ်၍၊ ငါတို့သည် မျက်နှာချင်း ဆိုင် မိကြ
၉ ကုန်အံ့ဟု မှာလိုက်လျှင်- ဣသရေလရှင်ဘုရင်
ယောရှက၊ လေဗနုန် ဆူးပင်သည်လေဗနုန်
အာရဇ်ပင်ထံသို့ စေလွှတ်၍၊သင့်သမီးကိုငါ့သား
နှင့်ပေးစားပါဟု ဆိုစည်တွင်၊ လေဗနုန်သားရဲ
တကောင်သည်ရှောက်သွား၍၊ဆူးပင်ကိုနင်းမိ
၁၀ ၏။-သင်သည်ဧဒုံပြည်ကိုလုပ်ကြံသောကြောင့်
စိတ်မြင့်လှ၏၊ကိုယ်နေရာ၌တတ်တိုင်း၊ဝါကြွား
လျက်နေလော့၊သင်ကိုယ်တိုင်နှင့်ယုဒပြည်သည်
ထိ ရောက် ၍ ဆုံး ရှုံး စေခြင်း ငှါ၊ အ ဘယ်
ကြောင့်အမှုရှာသနည်းဟု၊ယုဒရှင်ဘုရင်အာမ
၁၁ ဇိကိုပြန်၍ မှာလိုက်လေ၏။- ထိုစကားကိုအာမ
ဇိမင်း နားမထောင် သောကြောင့်၊ ဣသရေလ
ရှင်ဘုရင်သည်စစ်ချီ၍၊ ရှင်ဘုရင်နှစ်ပါးတို့သည်
ယုဒပြည်ဗက်ရှေမက်မြို့၌ မျက်နှာချင်းဆိုင်မိကြ
၁၂ သဖြင့်၊ ဣသရေလအမျိုးသားရှေ့မှာယုဒအမျိုး
သား ရှုံး၍၊ အသီးအသီး တို့သည် မိမိတို့နေရာ
၁၃ သို့ပြေး ကြ၏။ ဣသရေလ ရှင်ဘုရင် ယေဟော
ရှသည်၊ ယုဒ ရှင်ဘုရင် အာခဇိသား ဖြစ်သော
ယောရှ၏ သား၊ အာမဇိကို ဗက်ရှေမက် မြို့မှာ
ဖမ်းမိ၍၊ ယေရုရှလင်မြို့သို့သွား၊ ပြီးလျှင်၊ ယေရု
ရှလင်မြို့ရိုး၊ အတောင်လေးရာကို၊ ဧဖရိမ်တံခါး
မှသည် ထောင့်တံခါး တိုင်အောင် ဖြိုဖျက် လေ
၁၄ ပြီ။-ဗိမာန်တော်၌၎င်း၊ နန်းတော်ဘဏ္ဍာတိုက်
၌၎င်း၊ ရှိထားသောရွှေငွေမှစ၍ တန်ဆာအသုံးခံ
နှင့်အာမခံသောသူအချို့တို့ကိုယူပြီးမှ ရှမာရိ
၁၅ မြို့သို့ ပြန် သွား၏။ ယေဟောရှ ပြုသော အမှု
အရာကြွင်းနှင့်အစွမ်း တန်ခိုးကြီးခြင်း၊ ယုဒရှင်
ဘုရင်အာမဇိကို စစ်တိုက်ခြင်း အရာသည်၊ ဣသ
၁၆ ရေလ ရာဇဝင်၌ ရေးထားလျက်ရှိ၏။- ယေဟော
ရှသည်ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊ ဣသရေလ
ရှင်ဘုရင် တို့နှင့် အတူ ရှမာရိ မြို့၌ သင်း ဂြိုဟ်
ခြင်းကိုခံလေ၏။သားတော်ယေရောဗောင်သည်
ခမည်းတော်အရာ၌နန်းထိုင်၏။

၁၇ ဣသရေလရှင်ဘုရင်ယောခတ်၏သားယေဟော
ရှသေသည်နောက်၊ ယုဒရှင်ဘုရင် ယောရှ၏သား
အာမဇိသည် တဆယ်ငါးနှစ် အသက်ရှင်သေး
၁၈ ၏။- အာမဇိပြုသောအမှုအရာ ကြွင်းသောအမှု
တို့သည်၊ ယုဒရာဇဝင်၌ ရေးထားလျက် ရှိ၏။-
၁၉ ထိုမင်းတဘက်၊ ယေရုရှလင်မြို့၌ သင်းခွဲကြ၍၊
သူသည် လာခိရှမြို့သို့ ပြေးသည်တွင်၊ ထိုမြို့သို့
၂၀ စေလွှတ်၍သတ်စေပြီးမှ-မြင်းပေါ်၌တင်ဆောင်
ယေရုရှလင်မြို့သို့ဆောင်ခဲ့၍၊ ဘိုးဘေးတို့နှင့်အ
၂၁ တူ ဒါဝိဒ်မြို့၌သင်းဂြိုဟ်ကြ၏။ ယုဒပြည်သူပြည်
သားအပေါင်းတို့သည်အသက်တဆယ်ခြောက်
နှစ် ရှိသော သား တော် အာဇရိကို ယူ၍၊ ခမည်း
၂၂ တော် အာမဇိ အရာ၌ နန်း တင်ကြ၏။- ထိုမင်း
သည် ခမည်းတော် သေသည်နောက်၊ ဧလတ်မြို့
ကိုပြုပြင်၍ ယုဒနိုင်ငံထဲသို့ သွင်းပြန်၏။
၂၃ ယုဒ ရှင် ဘုရင် ယောရှ သား အာမဇိ နန်းစံ
ဆယ်ငါးနှစ်တွင်၊ ဣသရေလရှင်ဘုရင်ယေဟော
ရှသား ယေရောဗောင်သည် ရှမာရိမြို့၌ မင်းပြု
၂၄ ၍၊ လေးဆယ်တနှစ်မိုးစံ၏။- ထိုမင်းသည်ထာ
ဝရဘုရားရှေ့တော်၌ ဒုစရိုက်ကိုပြု၍၊ ဣသရေ
လအမျိုးကို ပြစ်မှားစေသော နေဗတ်သားယေ
၂၅ ရောဗောင်၏ဒုစရိုက်အပြစ်ကိုမရှောင်ဘဲနေ၏။-ဣ
သရေလ အမျိုး၏ ဘုရား သခင် ထာဝရ ဘုရား
သည်မိမိကျွန်၊ ဂါသေဖါမြို့နေ၊ အမိတ္တဲ၏သား
ပရောဖက် ယောနအားဖြင့်၊ မိန့်တော် မူသော
စကားတော်အတိုင်း၊ထိုမင်းသည်ဣသရေလနိုင်
ငံကိုဟာမတ်မြို့ဝင်ဝမှသည် ရှိုင်ပင်လယ်တိုင်
၂၆ အောင် ရန်သူလက်မှ နှုတ်၍ ပြုစုလေ၏။- အ
ကြောင်းမူကား၊ ဣသရေလ အမျိုး ခံရသော
ဆင်းရဲခြင်း၊ အလွန်လေးလံသည်ကို၎င်း၊ မြို့၌
အချုပ်ခံရသောသူဖြစ်စေ၊ အလွတ်ပြေးသော
သူဖြစ်စေ၊ ဣသရေလအမျိုး၌မစနိုင်သောသူမ
ရှိသည်ကို၎င်း၊ ထာဝရဘုရားသည် မြင်လျှင်-
၂၇ ဣသရေလအမျိုး၏ နာမကို မိုဃ်းကောင်းကင်
အောက်၌မပျောက်စေမည်အကြောင်းကြံတော်
မူ၍၊ ယေဟောရှ သား ယေရောဗောင် အားဖြင့်
၂၈ ကယ်တင်တော်မူ၏။- ယေရောဗောင်ပြုသော
အမှုအရာ ကြွင်း၊ ထို အမှု တို့ နှင့် တန်ခိုး ကြီး
ခြင်း၊စစ်တိုက်ခြင်း၊ အထက်က ယုဒနိုင်ငံ အဝင်
ဖြစ်သော ဒမာသက် မြို့နှင့် ဟာမတ်မြို့တို့ ဣသ
ရေလအမျိုး၌ ရန်သူလက်မှ နှုတ်ယူခြင်း အ
ရာတို့ သည် ဣသရေလ ရာဇဝင်၌ ရေးထား

၂၉ လျက်ရှိ၏။-ယေရောဗောင်သည်ဘိုးတော်ဘေး
တော် ဣသရေလ ရှင် ဘုရင် တို့နှင့်အိပ် ပျော်၍၊
သားတော် ဇာခရိ သည် ခမည်းတော် အရာ၌
နန်းထိုင်၏။

## ၁၅

၁ ဣသရေလရှင်ဘုရင်ယေရောဗောင်နန်းစံ နှစ်
၂ ဆယ့်ခုနစ်နှစ်တွင်၊ ယုဒရှင်ဘုရင်အာမဇိသား
ဩဇိသည်အသက်တဆယ်ခြောက်နှစ်ရှိသော်၊
နန်းထိုင်၍ ယေရုရှလင်မြို့၌ ငါးဆယ်နှစ်နှစ်စိုး
စံလေ၏။ မယ်တော်ကား၊ ယေရုရှလင် မြို့သူ
၃ ယေခေါလိ အမည်ရှိ၏။- ထိုမင်းသည် ခမည်း
တော် အာမဇိ ပြုသမျှ အတိုင်း၊ ထာဝရ ဘုရား
၄ ရှေ့တော်၌တရားသောအမှုကိုပြု၏။-သို့ရာတွင်၊
မြင့်သော အရပ်တို့ကို မပယ်ရှားသေးကြောင့်၊
လူတို့သည် ထိုအရပ် တို့၌ ယဇ်ပူဇော်၍ နံ့သာ
၅ ပေါင်းကိုမီးရှို့ကြ၏။-ထာဝရဘုရားသည်ဒဏ်
ခတ်တော်မူသဖြင့်၊ ရှင်ဘုရင် သည် သေသည်
တိုင်အောင် နူနာစွဲ၍၊ ခြားနားသော နန်း၌ နေရ
၏။ သားတော် ယောသံသည် နန်းတော်ကိုအုပ်
၆ ၍နိုင်ငံတော်မှုကို စီရင်ရ၏။- ဩဇိပြုမူသောအ
မှုအရာ ကြွင်းသေသမျှ တို့သည် ယုဒရာဇဝင်၌
၇ ရေးထား လျက် ရှိ၏။- ဩဇိသည် ဘိုးဘေး တို့
နှင့် အိပ်ပျော်၍၊ သူတို့နှင့်အတူ ဒါဝိဒ်မြို့၌ သင်း
ဂြိုဟ်ခြင်းကိုခံလေ၏။ သားတော်ယောသံသည်
ခမည်းတော်အရာ၌နန်းထိုင်၏။

၈ ယုဒ ရှင်ဘုရင် ဩဇိ နန်းစံ သုံး ဆယ် ရှစ် နှစ်
တွင်၊ယေရောဗောင်သား ဇာခရိသည်ရှမာရိမြို့
၉ ၌မင်းပြု၍၊ ဣသရေလ နိုင်ငံကိုစိုးစံ၏။-ထိုမင်း
သည်ဘိုးဘေးပြုသည့် အတိုင်း၊ ထာဝရဘုရား
ရှေ့တော်၌ဒုစရိုက်ကိုပြု၍၊ဣသရေလအမျိုးကို
ပြစ်မှားစေသော နေဗတ်သား ယေရောဗောင်၏
၁၀ ဒုစရိုက် အပြစ်တို့ကို မ စွန့်ဘဲနေ၏။- ယာဗက်
သားရှလ္လုံသည် ဇာခရိမင်း တဖက်၌ သင်းဖွဲ့
၍၊ လူများရှေ့မှာ သေအောင် လုပ်ကြံ ပြီးလျှင်၊
၁၁ သူ၏အရာ၌ နန်းထိုင်၏။- ဇာခရိပြုမူသောအမှု
အရာ ကြွင်းလေသမျှတို့သည်၊ ဣသရေလရာဇ
၁၂ ဝင်၌ရေးထားလျက်ရှိ၏။- ထိုသို့ထာဝရဘုရား
က၊ သင်၏သားမြေး လေးဆက်တိုင်အောင်၊ ဣ
သရေလနိုင်ငံ ရာဇပလ္လင်ပေါ်မှာ ထိုင်ရမည်ဟု၊
ယေဟုအား မိန့်တော်မူသော စကားတော်ပြည့်
စုံသတည်း။

၁၃ ယုဒ ရှင်ဘုရင် ဩဇိ နန်းစံ သုံး ဆယ် ကိုး နှစ်
တွင်၊ ရှလ္လုံသည် နန်းထိုင်၍၊ ရှမာရိမြို့၌ တလ
၁၄ စိုးစံလေ၏။- ဂါဒိသားမေနဟင်သည် တိရဇမြို့
မှရှမာရိ မြို့သို့သွား၍၊ ယာဗက်သား ရှလ္လုံကို
သေအောင် လုပ်ကြံ ပြီးလျှင်၊ သူ၏ အရာ၌ နန်း
၁၅ ထိုင်၏။-ရှလ္လုံပြုမူသောအမှုအရာ ကြွင်းလေသ
မျှတို့နှင့်၊ သင်းဖွဲ့ခြင်းအရာ သည်ဣသရေလရာ
၁၆ ဇဝင်၌ ရေးထားလျက်ရှိ၏။- ထိုအခါမေနဟင်
သည်တိဖသမြို့နှင့်မြို့သားများ၊တိရဇမြို့အလွန်၊
တိဖသမြို့နယ်များတို့ကိုလုပ်ကြံ၏။မြို့တံခါးကို
သူအား မဖွင့်သေးကြောင့်၊ လုပ်ကြံ၍ ကိုယ်
ဝန် ဆောင်သော မိန်းမ အပေါင်း တို့ ၏ ဝမ်းကို ခွဲ
လေ၏။

၁၇ ယုဒ ရှင်ဘုရင် ဩဇိ နန်းစံ သုံး ဆယ် ကိုးနှစ်
တွင်၊ ဂါဒိသားမေနဟင်သည်နန်းထိုင်၍၊ ရှမာ
ရိမြို့၌ဣသရေလနိုင်ငံကို ဆယ်နှစ်စိုးစံလေ၏။-
၁၈ ထိုမင်းသည် ထာဝရ ဘုရားရှေ့တော်၌ ဒုစရိုက်
ကိုပြု၍၊ ဣသရေလ အမျိုးကို ပြစ်မှားစေသော
နေဗတ်သားယေရောဗောင်၏ဒုစရိုက်အပြစ်တို့
ကိုမစွန့်ဘဲနေ၏။

၁၉ အာရှုရိရှင်ဘုရင်ပုလသည်ဣသရေလပြည်
ကို တိုက် လာ၏။ မေနဟင် သည် မိမိ အာဏာ
တည် စေမည် အကြောင်း၊ ပုလမင်းမစခြင်း
၂၀ ငှါ၊ငွေအခွက်တသောင်းကိုဆက်ရ၏။- အာရှု
ရိရှင်ဘုရင်အား ဆက်စရာဖို့၊ မေနဟင်သည်
ဣသရေလ အမျိုး၌ ငွေခွဲ၍၊ ရတတ်သော သူ
တိုင်း အကျပ် ငါး ဆယ်စီ ပေးရ၏။ ထိုကြောင့်
အာရှုရိ ရှင်ဘုရင် သည်မနေ၊ မိမိ ပြည်သို့ ပြန်
၂၁ သွား၏။- မေနဟင် ပြုမူသော အမှုအရာ ကြွင်း
လေ သမျှ တို့သည် ဣသရေလ ရာဇဝင် ၌ ရေး
၂၂ ထားလျက် ရှိ၏။- မေနဟင် သည် ဘိုးဘေးတို့
နှင့် အိပ် ပျော် ၍၊ သား တော် ပေကဟိ သည်
ခမည်းတော်အရာ၌နန်းထိုင်၏။

၂၃ ယုဒရှင်ဘုရင်ဩဇိ နန်းစံငါးဆယ်တွင်၊ မေန
ဟင်သားပေကဟိသည် နန်းထိုင်၍၊ ရှမာရိမြို့၌
၂၄ ဣသရေလနိုင်ငံကို နှစ်နှစ်စိုးစံလေ၏။- ထိုမင်း
သည်ထာဝရဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၍၊
ဣသ ရေလ အမျိုး ကို ပြစ်မှား စေသော နေဗတ်
သား ယေရောဗောင် ၏ ဒုစရိုက် အပြစ် တို့ကို မ
၂၅ စွန့်ဘဲနေ၏။- အမှုတော်ထမ်းတပ်မှူး ရေမလိ
သားပေကာသည်ပေကဟိမင်းတဖက်၌သင်းဖွဲ့
၍၊ အာဂေါတနှင့် အရေအ အစရှိသော ဂိလဒ်
ပြည် သား ငါး ကျိပ် ပါလျက်၊ ရှမာရိ မြို့ နန်း

တော်ထဲ၌သေအောင်လုပ်ကြံ၍၊ သူ၏ အရာ၌
၂၆ နန်းထိုင်၏။-ပေကာဟိ ပြုမူသောအမှုအရာကြွင်း
သောအမှု ထိုသည်၊ ဣသရေလ ရာဇဝင်၌ ရေး
ထားလျက်ရှိ၏။
၂၇ ယုဒရှင်ဘုရင် အာဇရိ နန်းစံ ငါးဆယ် နှစ်နှစ်
တွင်၊ ရေမလိသားပေကာသည်နန်းထိုင်၍၊ ရှမာ
ရိမြို့၌ ဣသရေလ နိုင်ငံကို အနှစ် နှစ်ဆယ်မိုးစံ
၂၈ လေ၏။-ထိုမင်းသည်ထာဝရဘုရားရှေ့တော်၌
ဒုစရိုက်ကို ပြု၍၊ ဣသရေလ အမျိုးကို ပြစ်မှား
စေသောနေဗတ်သား ယေရောဗောင်၏ဒုစရိုက်
၂၉ အပြစ်တို့ကိုမစွန့်ဘဲနေ၏။-ဣသရေလရှင်ဘုရင်
ပေကာ လက်ထက်၊ အာရှုရိ ရှင်ဘုရင် တိဂ
လတ်ပိလေသာသည်လာ၍ ဣယုန်မြို့၊ အာဗေလ
ဗက်မာခါမြို့၊ယာနောမြို့၊ ကေဒေရှမြို့၊ ဟာဇော်
မြို့နှင့်တကွ ဂိလဒ်ပြည်၊ ဂါလိလဲပြည်၊ နဿလိ
ပြည် သား အပေါင်း တို့ကို လုပ်ကြံ၍၊ အာရှုရိ
၃၀ ပြည်သို့သိမ်းသွား၏။-ဩဇိသားယောသံနန်းစံ
နှစ်ဆယ်တွင်၊ဧလာသား၊ဟောရှေသည်ရေမလိ
သားပေကာမင်းတပက်၌သင်းခွဲ၍သေအောင်
၃၁ လုပ်ကြံပြီးမှ၊ သူ၏ အရာ၌ နန်းထိုင်၏။-ပေကာ
ပြုမူသောအမှုအရာ ကြွင်းသောအမှုထိုသည်၊ ဣ
သရေလ ရာဇဝင်၌ရေးထားလျက်ရှိ၏။
၃၂ ဣသရေလရှင်ဘုရင် ရေမလိသားပေကာနန်း
စံနှစ်နှစ်တွင်၊ ယုဒရှင်ဘုရင် ဩဇိသားယောသံ
သည် အသက်နှစ်ဆယ် ငါးနှစ်ရှိသော်၊ နန်းထိုင်
၃၃ ၍၊ ယေရုရှလင်မြို့၌ ဣသရေလနိုင်ငံကိုတဆယ်
ခြောက်နှစ်မိုးစံလေ၏၊ မယ်တော်ကား၊ ဇာဒုတ်
၃၄ သမီးယေရုရှာအမည်ရှိ၏။- ထိုမင်းသည်ခမည်း
တော် ဩဇိ ကျင့်သမျှ အတိုင်း၊ ထာဝရ ဘုရား
၃၅ ရှေ့တော်၌၊ တရားသော အမှုကို ပြု၏။- သို့ရာ
တွင်၊ မြင့်သော အရပ် တို့ ကို မပယ် ရှား သော
ကြောင့်၊ လူတို့သည် ထိုအရပ်တို့၌ ယဇ်ပူဇော်
၍၊ နံ့သာပေါင်းကို မီးရှို့ကြ၏၊ ထိုမင်းသည်ဗိတ်
၃၆ မှန်တော် အထက်တံခါးကို လုပ်လေ၏။- ယော
သံပြုမူသောအမှုအရာကြွင်းသောအမှုထိုသည်၊
၃၇ ယုဒရာဇဝင်၌ရေးထားလျက်ရှိ၏။- ထိုကာလ
တွင်၊ ထာဝရဘုရားသည် ရှုရိ ရှင်ဘုရင်ရေဇိန်
နှင့်၊ ရေမလိ သား ပေကာကို ယုဒ ပြည် သို့ စေ
၃၈ လွှတ်တော်မူ၏။- ယောသံသည် ဘိုးဘေးတို့နှင့်
အိပ်ပျော်၍၊ သူတို့နှင့်အတူ အဘဒါဝိဒ်မြို့၌သင်
ဂြိုဟ်ခြင်းကိုခံလေ၏။ သားတော်အာခတ်သည်
ခမည်းတော်အရာ၌နန်းထိုင်၏။

## ၁၆

၁ ရေမလိသားပေကာနန်းစံဆယ်ခုနှစ်နှစ်တွင်၊
ယုဒ ရှင်ဘုရင် ယောသံ သား အာခတ် သည်
၂ အသက် နှစ်ဆယ်ရှိသော်၊နန်းထိုင်၍- ယေရုရှ
လင်မြို့၌ ဆယ်ခြောက်နှစ် မိုးစံ လေ၏။ ထိုမင်း
သည် အဘ ဒါဝိဒ် ကဲ့သို့ မကျင့်၊ ထာဝရ ဘုရား
၃ ရှေ့တော်၌တရားသောအမှုကိုမပြု။-ဣသရေလ
ရှင်ဘုရင်တို့လိုက်သောလမ်းသို့လိုက်၍၊ထာဝ
ရဘုရားသည် ဣသရေလ အမျိုးသားရှေ့မှ နှင်
ထုတ်တော်မူသော တပါးအမျိုးသားတို့၏ ရွံရှာ
ဘွယ် ထုံးစံ အတိုင်း၊ မိမိသားကို မီးဖြင့် ပူဇော်
၄ ၏။- မြင့် သော အ ရပ်၊ တောင် ပေါ်၊ ထင်း ပင်
အောက်တို့၌ ယဇ်ပူဇော်၍၊ နံ့သာပေါင်းကိုမီး
ရှို့တတ်၏။
၅ ထိုအခါ ရှုရိရှင်ဘုရင်ရေဇိန်နှင့်၊ ဣသရေလ
ရှင်ဘုရင်ရေမလိသားပေကာသည်ယေရုရှလင်
မြို့သို့ စစ်ချီ၍၊ အာခတ် မင်းကို ဝိုင်းထား သော်
၆ လည်းမနိုင်ရ။- သို့ရာတွင်၊ရှုရိရှင်ဘုရင်ရေဇိန်
သည် ဧလတ်မြို့ကိုရှုရိနိုင်ငံသို့သွင်း၍၊ ယုဒ
လူတို့ကိုနှင်ထုတ်သဖြင့်၊ ရှုရိလူတို့သည်လာ၍
ယနေ့တိုင်အောင်ဧလတ်မြို့၌နေကြ၏။
၇ ထိုကြောင့် အာခတ်သည် အာရှုရိ ရှင်ဘုရင်
တိဂလတ်ပိလေသာထံသို့ သံတမန်ကို စေလွှတ်
၍၊ ကျွန်ုပ်သည် ကိုယ်တော် သား၊ ကိုယ်တော်
ကျွန်ဖြစ်ပါ၏။လာပါ၊ကျွန်ုပ်ကိုရန်ထတ်ပြုသော
ရှုရိရှင် ဘုရင်နှင့်ဣသရေလ ရှင်ဘုရင် လက်မှ
၈ ကယ်ယူပါဟု တောင်း ပန်၏။- တဖန် ဗိတ်မှန်
တော်၌ရှိ၊နန်းတော်ဘဏ္ဍာတိုက်၌ရှိသော
ရွှေငွေကို ယူ၍၊အာရှုရိ ရှင်ဘုရင်ထံသို့ လက်
၉ ဆောင် ပေး လိုက် လေ၏။- အာရှုရိ ရှင်ဘုရင်
သည် နား ထောင် ၍၊ ဒမာသက် မြို့သို့ စစ်ချီ၍
တိုက် ယူပြီး လျှင်၊ ပြည် သား တို့ကို ကိရမြို့
သိမ်းသွား၏၊ရေဇိန်မင်းကိုလည်းသတ်၏။
၁၀ အာခတ် မင်းကြီးသည် အာရှုရိရှင်ဘုရင်ကို
ခရီးဦးကြိုပြုခြင်းငှါ၊ဒမာသက်မြို့သို့သွား၏၊ထို
မြို့မှာရှိသော ယဇ်ပလ္လင်ကိုမြင်လျှင်၊ ပလ္လင်ပုံ
အတိုင်းအရှည်၊ ထန်ဆာရှိသမျှကိုရေး၍ ယဇ်
၁၁ ပုရောဟိတ် ဥရိယ ထံသို့ ပေးလိုက်၏။- ထိုသို့
ဒမာသက် မြို့မှ အာခတ်မင်း ပေးလိုက် သမျှအ
တိုင်း၊ ယဇ်ပုရောဟိတ် ဥရိယသည် အာခတ်
၁၂ မင်းမရောက်မီလုပ်နှင့်ပြီး။-ရှင်ဘုရင်သည်ဒမာ
သက်မြို့မှရောက်လာသောအခါ၊ ထိုယဇ်ပလ္လင်

၁၃ ကိုမြင်၍ ရှည်း၊ ကပ်သမြင့်- မီးရှို့ရာ ယဇ်နှင့်
ဘောဇဉ် ပူဇော်သကာ ကို မီး ရှို့၏၊ သွန်း
လောင်းရာပူဇော်သကာကိုလည်း၊ သွန်းလောင်း
၏၊ မိဿဟာယ ယဇ် အသွေးကိုလည်း၊ ထိုယဇ်
၁၄ ပလ္လင်ပေါ်မှာ မြှန်းလေ၏။- ထာဝရ ဘုရားရှေ့
တော်၌ရှိသော ကြေးဝါယဇ်ပလ္လင်ကို ဗိမာန်
တော်ရှေ့၊ ယဇ်ပလ္လင်ကြီးနှင့်ဗိမာန်တော်စပ်
ကြား အရပ်မှ ရွှေ၍၊ ယဇ်ပလ္လင်ကြီး မြောက်
၁၅ ထက်၌ထား၏။-တစ်ဖန်ယဇ်ပုရောဟိတ်ဥရိယ
ကိုမှာထားသည်ကား၊ နံနက်မီးရှို့ရာယဇ်နှင့်ည
ဦးယံ ဘောဇဉ် ပူဇော်သကာ၊ ရှင်ဘုရင်မီးရှို့
ရာ ယဇ်နှင့် ဘောဇဉ်ပူဇော်သကာ၊ ပြည်သူ
ပြည်သားမီးရှို့ရာယဇ်နှင့် ဘောဇဉ်ပူဇော်သ
ကာ၊ သွန်းလောင်းရာပူဇော်သကာတို့ကိုထိုယဇ်
ပလ္လင်ကြီးပေါ်မှာ မီးရှို့လော့။ မီးရှို့ရာ ယဇ်အစ
ရှိသော ယဇ်ရှိုး အသွေးကို လည်း၊ ထိုပလ္လင်
ပေါ်မှာမြှန်းလော့။ ကြေးဝါယဇ်ပလ္လင်သည်ငါ
၁၆ အမေးမြန်းစရာအိုမှိ ရမည်ဟု- အာခတ်မင်းကြီး
မှာထား သမျှ အ တိုင်း၊ ယဇ် ပုရောဟိတ် ဥရိ
ယပြု၏။
၁၇ အာခတ်မင်းကြီးသည်ကြေးဝါခုံတန်ဆာတို့
ကိုပယ်၍၊ ခင်တုံကိုလည်း ရွှေ၏၊ ကြေးဝါရေ
ထန်ကိုလည်း။ ကြေးဝါ နွားတို့အပေါ်က ချ၍၊
၁၈ ကျောက်ခင်းပေါ်မှာတင်ထား၏။-ဗိမာန်တော်
၌ ဥပုသ်နေ့စရာတို့ ဆောက်သော မဏ္ဍပ်ကို
ရုပ်၊ ရှင်ဘုရင်တက်ရာ ဓိပ္ပါယ် ကိုရင်၊ အာ
၁၉ ရှုရှင်ဘုရင်ကြောင့်ပယ်၏။-အာခတ်ပြုမူသော
အမှုအရာ ကြွင်းသေးသမျှ တို့သည်၊ ယုဒရာဇ
၂၀ ဝင်၌ ရေးထား လျက်ရှိ၏။- အာခတ်သည် ဘိုး
တော်တို့နှင့်အိပ်ပျော်၍၊ သူတို့နှင့်အတူ ဒါဝိဒ်မြို့
၌ သင်းဂြိုဟ်ခြင်းကိုခံလေ၏၊ သားတော်ဟေဇ
ကိယသည်ခမည်းတော်အရာ၌နန်းထိုင်၏။

၁၇

၁ ယုဒ ရှင်ဘုရင် အာခတ် နန်း စံ ဆယ်နှစ် နှစ်
တွင်၊ ဧလာသားဟောရှေသည်နန်းထိုင်၍၊ ရှမာ
ရိမြို့၌ ဣသရေလ နိုင်ငံ ကို ကိုးနှစ် မိုးစံလေ၏။-
၂ ထိုမင်းသည် ထာဝရ ဘုရား ရှေ့တော်၌ ဒုစရိုက်
ကိုပြု၏။ သို့သော်လည်း၊ သူ့ရှေ့မှာဖြစ်ဖူးသော
ဣသရေလရှင်ဘုရင်တို့ပြုသောဒုစရိုက်ကိုမပြု။-
၃ ထိုမင်းကိုအာရှုရိရှင်ဘုရင်ရှာလမနေဇာသည်
စစ်ချီ၍၊ ဟောရှေသည်ကျွန်ခံ၍ အခွန်အတော်
၄ ...ကိုဆက်၍ ... အခွန်ဆက်ရသော ...

ကို မဆက်၊ ဟွာ အမည်ရှိသော အဲဂုတ္တုရှင်
ဘုရင်ထံသို့ သံ တမန် ကို စေလွှတ်၍၊ ပုန်ကန်
မည် အကြံ ရှိသည်ကို အာရှုရိ ရှင်ဘုရင်သိသော
ကြောင့်၊ ဟောရှေကို ဖမ်းဆီး၍ ထောင်ထဲမှာ ချုပ်
၅ ထား၏။ ထိုနောက်- ဣသရေလ ပြည် တရှောက်လုံး
သို့ စစ်ချီ၍၊ ရှမာရိ မြို့သို့ရောက်သော်၊ သုံးနှစ်
၆ ဝိုင်းထား၏။- ဟောရှေနန်းစံ ကိုးနှစ်တွင်၊ အာ
ရှုရိရှင်ဘုရင်သည်ရှမာရိမြို့ကိုရပြီးလျှင်၊ ဣသ
ရေလ အမျိုးကို အာရှုရိ ပြည် သို့ သိမ်း သွား၍
ဂေါဇန်မြစ်နား၊ ဟာလမြို့၊ ဟာဗော်မြို့ အစရှိ
၇ သောမေဒိနိုင်ငံမြို့ရွာတို့၌ထား၏။- အကြောင်း
မူကား၊ အဲဂုတ္တုပြည်နှင့် အဲဂုတ္တုဘုရင်ဖာရောဘုရင်
ထက် ထဲက၊ ကယ် နှုတ် တော် မူသော မိမိ တို့
ဘုရားသခင်ထာဝရဘုရားကို ဣသရေလအမျိုး
သားတို့သည် ပြစ်မှား၍၊ အခြား တပါးသော
၈ ဘုရား တို့ကို ရိုသေကြ၏။- သူတို့ရှေ့မှ ထာဝရ
ဘုရား နှင်ထုတ်တော်မူသော တပါးအမျိုးသား
တို့ထုံးစံနှင့်၊ မိမိတို့ရှင်ဘုရင်ပြုသောရှင်ဘုရင်တို့
၉ ထုံးစံသို့လိုက်ကြ၏။- မိမိတို့ ဘုရား သခင် ထာ
ဝရဘုရားထံ၌၊ မတရားသောအမှုကိုမထင်
မရှားပြုကြ၏၊ ကင်းစောင့်သောမျှော်စင် ဖြစ်စေ၊
ခိုင်ခံ့သော မြို့ ဖြစ်စေ၊ မြို့ရွာ အလုံး နေ ထိုင်ရာ ဖြစ်
၁၀ သောအရပ်ကို တည်ကြ၏။- ရုပ်တုဆင်းတု နှင့်
အာရှရပင် တို့ကို မြင့်သော ကုန်းရှိသမျှတို့ အ
ပေါ်မှာ၎င်း၊ စိမ်းသောသစ်ပင်ရှိသမျှတို့အောက်
၁၁ မှာ၎င်း တည်ထောင်ပြုစုကြ၏။- သူတို့ရှေ့မှ ထာ
ဝရဘုရား နှင်ထုတ်တော် မူသော တပါး အမျိုး
သားပြုသကဲ့သို့၊ မြင့်သောအရပ် ရှိသမျှ အပေါ်
မှာ နံ့သာ ပေါင်းကို မီးရှို့၍၊ ထာဝရ ဘုရား၏ အ
မျက်တော်ကိုနှိုးဆော်ခြင်းငှါ၊ အဓမ္မအမှုတို့ကို
၁၂ ပြုကြ၏။-ထာဝရဘုရားပညတ်တော်မူသောအ
မှု၊ ရုပ်တုဆင်းတုတို့၌ ပူဇော်ခြင်းအမှုကိုပြုကြ
၁၃ ၏။- သို့ရာတွင်၊ ထာဝရ ဘုရားက၊ အဓမ္မ လမ်း
တို့ကို ရှောင်ကြလော့၊ ငါသည်သင်တို့ ဘိုးဘေး
တို့၌ထားသောတရား၊ ငါ့ကျွန်ပရောဖက်တို့ဖြင့်
ပေးလိုက်သော တရားကို၊ အကုန်အစင်ကျင့်၍၊
ငါ့ရှင် ထုံးဖွဲ့ချက်တို့ကို စောင့်ရှောက်ကြလော့
ဟု၊ ပရောဖက် များ၊ နှင့် အနာဂတ် ဆော အရာ
များတို့ဖြင့်ဣသရေလအမျိုး၊ ယုဒအမျိုးတို့သက်
၁၄ သေ ခံတော် မူသော် လည်း- သူတို့ သည် နားမ
ထောင်၊ မိမိတို့ဘုရားသခင် ထာဝရ ဘုရားကိုမ
ယုံ ကြည် သော ဘိုး ဘေး တို့ ကဲ့သို့ [illegible] ...

၁၅ မိမိတို့ထည်ယင်းကိုမိုင်မာခစေကြ၏။-မိရဝ်တော်
ရှူရှတ်၊ထိုအထေးထို့နှင့်ဖွဲတော်မူသောပမိုညည်၊
ရှူထို့၌ထက်သေခံတော်မူသောထက်သေတို့ကို
စထိ၍၊ အနုတ္တတရားကိုကျင့်လျှက်အရှည်းနှီး
ထတ်သတ်မြစ်ကြ၏၊အကြင်တပါးအမျိုးသား
ကျင့် ထကဲ့သို့ မကျင့် ကြဲနှင့်ထု၊ ထာဝရ ဘုရား
ပညတ်တော်မှု၏။ပတ်ထည်၌နေသောထိုအမျိုး
၁၆ ထားနောတ်သို့လိုက်ကြ၏။-မိမိတို့ဘုရားသခင်
ထာဝရ ဘုရား၏ ပညတ်တော် မှိသမျှထိုကို စွန့်
၍၊ ခွဲသင္ငယ် တည်းဟူသော ထွန်းသော ရုပ်
ထုနှင့် အာရှရပင်ကို ထုပ်ကြ၏၊ မိုဃ်းကောင်း
ကင်တန်ဆာရှာ၊ကိုကိုးကွယ်၍၊ ဗာလဘုရား
၁၇ ကိုထည်းဝတ်ပြုကြ၏။-သားသွီးတို့ကိုမီးဖြင့်ပူ
စော်ကြ၏၊ နတ်ပိဋ္ဌာ အတတ်၊ ပြုစားသောအ
အတ်ကိုသုံးဆောင်၍၊ ထာဝရဘုရား၏အရှက်
တော်ကို နှိုးဆော်ခြင်းငှါ၊ရှေ့တော်၌ဒုစရိုက်ကို
၁၈ ပြုမည်ထု၊ ကိုယ်ကို ရောင်းကြ၏။- ထိုကြောင့်၊
ထာဝရ ဘုရားသည် ဣသရေလအမျိုးကို ပြင်း
စွာ အမျက် ထွက်၍၊ မျက်မှောက်တော်မှ ပယ်
ရှားတော်မူ၏၊ ယုဒအမျိုးမှတပါးအခြားသော
၁၉ အမျိုး မကျန်ကြွင်းရ။- ယုဒ အမျိုးမှကား မိမိ
တို့ ဘုရားသခင် ထာဝရဘုရား၏ ပညတ်တရား
တော်ကို မစောင့်၊ ဣသရေလအမျိုးလိုက်သော
၂၀ ထုံးစံဓလေ့သို့လိုက်ကြ၏။-ထာဝရဘုရားသည်
ထည်း၊ဣသရေလအမျိုးမှိသမျှကိုစွံ ရှား၍၊မျက်
မှောတ်တော်မှ၊ မနှင်ထုတ်မှိထိုင်အောင် ဓါးထ်
စတ်တော်မူ၏၊ လုရတ်သော သူတို့ထက်၌ အပ်
၂၁ တော်မူ၏။- ဣသရေလအမျိုးကိုဒါဝိဒ်မင်းမျိုးမှ
ဆုတ်ခွဲ၍၊ သူတို့ထည် နေဗတ်၏သား ယေရော
ဗောင်ကို ရှင်ဘုရင်အရာ၌ခန့်ထားကြ၏၊ ယေ
ရောဗောင် ထည်ယည်း၊ ထာဝရဘုရား နောတ်
တော်သို့လိုက်ရာထမ်းမှ၊ ဣသရေလအမျိုးကို
၂၂ လွှဲစေ၍ဒုစရိုက်ကြီးကိုပြုစေ၏။- သို့ဖြစ်၍၊ယေ
ရောဗောင်ပြုသောဒုစရိုက်ထမ်းသို့၊ ဣသရေလ
အမျိုးယားယိုထဦ အစည်တမိုက်လိုက်ကြ၏။-
၂၃ ထာဝရဘုရားသည်မိမိတျွန်ပရောဖက်အပေါင်း
ထိုဖြင့် မိန့်တော်မူသည်အတိုင်း၊ ဣ ထရေလအ
မျိုးကို မျက်မှောက် တော်မှ ပယ်ရှားတော်မမူမှိ
ထိုင်အောင်၊ သူထို့ထည် ထိုဒုစရိုက် အပြစ်ကိုမ
ရှောင်ထဲလိုက်ကြ၏၊ ထိုကြောင့်၊ နေရင်းပြည်မှ
အာရှုရိ ပြည်သို့ သိမ်းသွားခြင်းကို ထနေ့ထိုင်
အောင်ခံရကြ၏။

၂၄ အာရှုရိ ရှင်ဘုရင်ထည်ထည်း၊ ဗာဗုလုန်မြို့
သား၊ ကုသမြို့သား၊ အာဝမြို့သား၊ ဟာမတ်မြို့
သား၊သေဖရဝိမ်မြို့သားတို့ကိုဆောင်ခဲ့၍၊ ရှမာ
ရိမြို့ရွာတို့တွင်၊ ဣသရေလ အမျိုးသား ကိုယ်
စားထားသဖြင့်၊ ထိုလူတို့ထည် ရှမာရိ မြို့ရွာတို့
၂၅ ကို သိမ်း ယူ၍ နေရာ ကျကြ၏။- နေရာကျစထ
ထာဝရဘုရားကိုမရိုသေသောကြောင့်၊ ခြင်္သေ့
တို့ကို စေလွှတ်၍၊ အချို့ထိုကို ကိုက်စေတော်မူ
၂၆ ၏။- ထိုကြောင့်အချို့တို့က၊ ကိုယ်တော်ပြောင်း
စေ၍၊ ရှမာရိ မြို့ရွာတို့၌ ထားတော်မူသော လု
အမျိုးမျိုး၊ တို့ သည်၊ ထိုပြည် စောင့် ဘုရား၏
တရားကို နားမထည် သောကြောင့်၊ ထိုဘုရား
ထည် ခြင်္သေ့တို့ကို စေလွှတ်၍၊ နေရာကျသော
သူ တို့ကို သတ်ပါ ထည် ထု၊ အာရှုရိ ရှင် ဘုရင်
၂၇ အားလျှောက်ကြသော်- အာရှုရိရှင်ဘုရင်က၊
ထို ပြည်မှ သိမ်း ခဲ့ သော ထင်း ပရော ဟိတ်ထ
ယောက်ကို ပြန်ပို့ကြ၊ သူသည်သွား၍ ထိုပြည်
စောင့် ဘုရား၏ တရားကို သွန်သင်လျှက် နေပါ
၂၈ စေလော့၊ မိန့်တော်မူသည်အတိုင်း- ရှမာရိမြို့
မှ သိမ်းခဲ့ သော ယင်း ပရော ဟိတ် ထ ယောက်
ထည် ပြန်၍၊ ဗေထလ မြို့၌ နေ လျှက်၊ ထာဝရ
ဘုရားကို အဘယ်သို့ ရိုသေ ရမည်ကို သွန်သင်
၂၉ ထေ၏။-သို့သော်လည်း၊ထိုလူမျိုးအသီးအသီး
တို့သည်မိမိတို့ဘုရားကိုလုပ်၍၊ နေရာကျသော
မြို့ ရွာ တွင်၊ မြင့်သောအရပ် ပေါ်မှာ ရှမာရိ မြို့
သား လုပ် နှင့်သော ဗိမ်တို့၌ တင်ထားကြ၏-
၃၀ ဗာ ဗု လုန် မြို့ သား တို့ သည် သု ကုတ် ဗေ နုတ်
ဘုရား၊ ကုသ မြို့ သားတို့သည်နေရဂါလဘုရား၊
၃၁ ဟာမတ် မြို့သားတို့သည်အရှိမ ဘုရား။- အာဝ
မြို့သား တို့သည် နိဗထာဇ ဘုရားနှင့်တာတတ်
ဘုရားကိုလုပ်ကြ၏၊သေဖရဝိမ်မြို့သားတို့သည်
ထည်း၊ သေဖရဝိမ် မြို့ စောင့် ဘုရား အာဒြမ္မေ
ထတ်နှင့်၊ အာနမ္မေ ထတ်ဘုရားတို့အား၊ သား
၃၂ တို့ကို မီး ရှို့၍ ပူဇော်ကြ၏။- ထာဝရ ဘုရားကို
ထည်းရိုသေ၍၊ ထာမည လူတို့ကို မြင့်သော အ
ရပ်ယင်းပရောဟိတ်အရာ၌ခန့်ထားသဖြင့်၊ သု
တို့သည်မြင့်သော အရပ်ဗိမ်တို့၌ ထုရှားအဖို့
၃၃ ယင်း ပူဇော်ကြ၏။- ထိုသို့ထာဝရ ဘုရားကို ရို
သေကြ၏၊ သိမ်းသွားခြင်းကိုခံရသောလူမျိုးရို
ထကဲ့သို့၊ မိမိတို့ ဘုရားကိုထည်း ဝတ်ပြုကြ၏-
၃၄ ယနေ့ထိုင်အောင် ရှေးထုံးစံ ဓလေ့သို့ လိုက်ကြ
ထည်ဖြစ်၍၊ထာဝရဘုရားကိုမရိုသေရာမရောက်။



 

ဣသရေလ အမျိုးခံရသော ဓိရင်ထုံးဖွဲ့ ရှက်ထို ကိုမစောင့်၊ဣသရေလအမည်ဖြင့်သရုတ်သော ယာကုပ်အမျိုးသားတို့၌၊ ထာဝရ ဘုရား ထား တော်မူသော ပညတ် တရား ထိုကို မကျင့်ဘဲ နေ
၃၅ ကြ၏။- ထာဝရ ဘုရားသည် ထိုအမျိုးသားတို့ နှင့် ပဋိညာဉ်ဖွဲ့၍၊ သင်တို့သည် အခြား တပါး သောဘုရားတို့ကိုမရှိသေ၊ဦးမညွှတ်၊ဝတ်မပြု၊
၃၆ ယဇ်မပူဇော်ရ။- သင်တို့ကို ကြီးသော တန်ခိုး ဆန့် သော လက် ရုံး တော် အားဖြင့်၊ အဲဂုတ္တု ပြည်မှ ကယ်နှုတ် တော်မူသော ထာဝရဘုရား ကိုသာရှိသေကိုးကွယ်၍၊ ယဇ်ပူဇော် ရမည်။-
၃၇ သင်တို့အဖို့ ရေးထားတော်မူသော ဓိရင် ထုံးဖွဲ့ ရှက် ပညတ် တရား ထိုကို အစဉ် အမြဲ စောင့် ရှောက်ရမည်။ အခြားတပါးသောဘုရားတို့ကို
၃၈ မရှိသေရ။- သင်တို့နှင့် ငါဖွဲ့သော ပဋိညာဉ်ကို မမေ့လျော့ရ၊ အခြား တပါးသော ဘုရား ထိုကို
၃၉ မရှိသေရ။-သင်တို့၏ဘုရားသခင်ထာဝရဘုရား ကိုသာရှိသေရမည်။ ထိုပြုလျှင်၊ရန်သူအပေါင်း ထိုထံမှ ကယ်နှုတ်တော် မူမည်ဟု၊ မှာထား
၄၀ တော်မူသော်လည်း၊- သူတို့သည်နားမထောင်၊
၄၁ ရှေ့ထုံးစံဓလေ့သို့လိုက်ကြ၏။- ထိုလူအမျိုးမျိုး တို့ယ်ထိုင်မှစ၍၊ သားမြေး၊မြစ်တို့သည် ထာဝရ ဘုရား ကို ရှိသေ ကြ၏။ ရုပ်တု ဆင်းတု ထို ကို ထည်းဝတ်ပြုကြ၏။ ဘိုးဘေးထားသို့လိုက်၍၊ ယနေ့တိုင်အောင်ကျင့်နေကြ၏။

၁၈

၁ ဣသရေလရှင်ဘုရင်ဧလာသားဟောရှေနန်း
၂ စံသုံးနှစ်တွင်၊ ယုဒရှင်ဘုရင်အာခတ်သားဟေ ဇကိသည်အသက်နှစ်ဆယ်ငါးနှစ်ရှိသော်၊နန်း ထိုင်၍ ယေရုရှလင်မြို့၌ နှစ်ဆယ် ကိုးနှစ် မိုးစံ လေ၏။ မယ်တော်ကား၊ ဇာခရိသို၏ အဘိ အ
၃ မည်ရှိ၏။- ထိုမင်းသည် အဘ ဒါဝိဒ် ကျင့်သမျှအ တိုင်း၊ထာဝရဘုရားရှေ့တော်၌တရားသောအ
၄ မှုကိုပြု၏။-မြင့်သော အရပ်တို့ကိုပယ်၏။ရုပ်တု ဆင်းတု ထိုကို ဖြိုးခွဲ၏။ အာရှရပင် တို့ကို ခုတ် လှဲ၏။ မောရှေ လုပ်သော ကြေးဝါမြွေကိုအ ပိုင်းပိုင်းဖြတ်၏။အကြောင်းမူကား၊ ဣသရေလ အမျိုးသားတို့သည်၊ ထိုကာလတိုင်အောင်၊ထို မြွေရှေ့မှာ နံ့သာ ပေါင်းကို မီးရှို့ တတ်ကြ၏။ထို
၅ မြွေကိုနေဟုဋ္ဌန်အမည်ဖြင့်မှည့်သတည်း။-ဣသ ရေလအမျိုး၏ဘုရားသခင်ထာဝရဘုရားကိုထို မင်းမှီခို၏။ သူ့နောက်မှာရှိသော ယုဒ ရှင်ဘုရင်တစ်ယောက်မျှမရှိ၊ ရှေ့ကာလ၌လည်း
၆ မရှိ။- ထာဝရ ဘုရား၌ ဆည်းကပ်၍၊ နောက် တော်သို့ အစဉ် အမြဲ လိုက်လေ၏။ မောရှေ၌ ထာဝရဘုရား ထားတော်မူသော ပညတ် တော်
၇ ထိုကိုစောင့်ရှောက်လေ၏။- ထာဝရဘုရားသည် ထိုသူနှင့်အတူ ရှိတော်မူသဖြင့်၊ သူသည်ပြုလေရာ ရာ၌အောင်လေ၏။အာရှုရိရှင်ဘုရင်၏လွှဲန်မခံ၊
၈ ပုန်ကန်လေ၏။- ဖိလိတ္တိလူထိုကို တိုက်၍ ဂါဇ မြို့နယ်တိုင်အောင်၊ မိုင်ခံ့သော မြို့ရွာနှင့် ကင်း စောင့်သောမျှော်စင်ရွာကိုလုပ်ကြံလေ၏။
၉ ဟေဇကိမင်းကြီးနန်းစံလေးနှစ်၊ဣသရေလ ရှင်ဘုရင် ဧလာသား ဟောရှေ နန်းစံ ခုနစ်နှစ် တွင်၊ အာရှုရိ ရှင်ဘုရင် ရှာလမနေသာ သည် ရှ
၁၀ မာရိမြို့သို့စစ်ချီ၍ဝိုင်းထား၏။-သုံးနှစ် ရှာသော အခါ၊ဟေဇကိနန်းစံခြောက်နှစ်၊ဣသရေလရှင် ဘုရင် ဟောရှေနန်းစံ ကိုးနှစ်တွင်၊ ရှမာရိမြို့ကို
၁၁ တိုက်၍ရကြ၏။- အာရှုရိ ရှင် ဘုရင် သည်ဣသ ရေလ အမျိုး ကို အာရှုရိ ပြည်သို့ သိမ်း သွား၍ ဂေါဇန် မြစ်နား၊ ဟာလမြို့၊ ဟာဗော်မြို့ အစရှိ
၁၂ သောမေဒိနိုင်ငံ မြို့ရွာတို့၌ထား၏။- အကြောင်း မူကား၊ သူတို့သည် မိမိတို့ ဘုရားသခင်ထာဝရ ဘုရား၏ စကားတော်ကို နားမထောင်၊ဖွဲ့တော် မူသော ပဋိညာဉ်ကိုငင်၊ ထာဝရဘုရား၏ကျွန် မောရှေ မှာထား သမျှကို ငင်အမှု မထား၊ ထွန် ကျူးကြ၏။
၁၃ ဟေဇကိမင်းကြီး၊ နန်းစံဆယ်လေးနှစ်တွင်၊ အာရှုရိရှင်ဘုရင်သနာခရိပ်သည် ယုဒပြည်၌၊ မိုင်ခံ့သောမြို့ ရှိသမျှ ထိုကို စစ်ချီ၍ လုပ်ကြံလေ
၁၄ ၏။- ယုဒရှင်ဘုရင် ဟေဇကိသည် အာရှုရိရှင် ဘုရင်ရှိရာ လာခိရှမြို့သို့ စေလွှတ်၍၊ အကျွန်ုပ် မှားပါပြီ၊ ပြန်သွားတော်မူပါ။ ကိုယ်တော်ထင် သမျှကိုထမ်းပါမည်ဟု လျှောက်စေသော်၊ အာ ရှုရိ ရှင်ဘုရင် သည် ယုဒ ရှင်ဘုရင် ဟေဇကိ၌ ငွေ အခွက် သုံးထောင်၊ ရွှေ အခွက် သုံးရာ ကို
၁၅ တောင်း၏။-ဟေဇကိသည်ဗိမာန်တော်၌၎င်း၊ နန်းတော်ဘဏ္ဍာတိုက်၌၎င်း၊တွေ့သမျှသောငွေ
၁၆ ကိုပေး၏။- ဗိမာန်တော် တံခါး တန်ဆာများ၊ ကိုယ်တိုင်အရင် ရွှေမံသော တိုင်တန်ဆာများ တို့ကိုလည်းခွာ၍၊ အာရှုရိရှင်ဘုရင်အားပေး၏။
၁၇ နောက် တစ်ခန် အာ ရှုရိ ရှင်ဘုရင် သည် တာ တန်၊ ရာဗသာရိတ်၊ ရာဗရှာခ ထို ကို များ စွာ သောဗိုလ်ခြေနှင့်တကွ၊လာခိရှမြို့မှ ယေရုရှလင်

မြို့၊ လေဘကိ မင်းကြီး၏ထိုလို့ စေလွှတ်သဖြင့်၊ သူ
တို့သည် ရောက်သောအခါ၊ ခဝါသည်၏ လယ်
နားမှာရှောက်သောလမ်း၊ အထက်ရေကန်မြောင်
၁၈ ဝန်ရှိရပ်နေကြ၏။- ရှင်ဘုရင်ကို ခေါ်သောအခါ၊
ဟိလကိသား ဖြစ်သောနန်းတော်အုပ်ဧလျာကိမ်၊
စာရေးတော်ကြီးရှေဗန၊ အာသပ်သား အတွင်း
ဝန်ယောအာတို့သည် သူတို့ထံသို့ထွက်ပြီးလျှင်-
၁၉ ရာဗရှာခက၊ မဟာအရှင်မင်းကြီး၊ အာရှုရိရှင်
ဘုရင်သည်ဟေဇကိကိုမိန့်တော်မူသည်ကား၊
သင်မှီလှုံ သဖြင့် မှီလှုံ ရာ ကား၊ အဘယ် သို့
၂၀ နည်း။- စစ်တိုက်သောအခြောင်ညာဏ်သတ္တိ၊
အစွမ်းသတ္တိနှင့် ငါပြည့်စုံသည်ဟု၊ အချည်းနှီး
သောစကားကိုသင်ဆိုပါသည်တကား၊ ငါ့ကိုပုန်
ကန်ခြင်းငှါ အဘယ် သူကို ကိုး စား သနည်း။-
၂၁ ထိုးသော ကျူလုံး၊ တောင်ဝေးတည်းဟူသော
အဲဂုတ္တုပြည်ကိုကိုးစားပါသည် တကား၊ ထို
ကျူလုံးသည် မှီသောသူ၏ လက်ကို ဖောက်၍
ထိုးသွားလိမ့်မည်။ ထိုသို့အဲဂုတ္တုမင်းကြီး စာ
ရောဘုရင်သည် မိမိ၌မှီသောသူအပေါင်းတို့ကို
၂၂ ဖြစ်လိမ့်မည်။- သင်တို့က၊ ငါတို့သည် ငါတို့၏
ဘုရားသခင်ထာဝရဘုရားကို ကိုးစားသည်ဟု
ဆိုပြန်လျှင်၊ ဟေဇကိသည် မြင့်သောအရပ်ဌာ
နနှင့် ယဇ်ပလ္လင်တို့ကိုပယ်၍၊ ယေရုရှလင်မြို့
မှာဤမည်သော ယဇ်ပလ္လင်ရှေ့၌သာကိုးကွယ်
ရမည်ဟု ယုဒပြည်သူ၊ ယေရုရှလင် မြို့သားတို့
ကိုမှာထားသဖြင့်၊ သင်တို့ ပြစ်မှားသော ဘုရား
၂၃ ဖြစ်သည်မဟုတ်လော။- သို့ဖြစ်၍၊ ယခုတွင် ငါ့
သခင်၊အာရှုရိရှင်ဘုရင်၌ အာမခံတို့ကိုအပ်ပါ
လော့။ သင်၌ မြင်းစီးသူရှိ ထုံသောက်အောင် ရှိ
၂၄ လျှင်၊ မြင်းနှစ်ထောင်တို့ကို ငါပေးမည်။- သင်
သည် သခင်၏ ကျွန်တို့တွင်၊ အငယ်ဆုံးသော
မှူးတယ်ကိုအဘယ်သို့လှန်နိုင်မည်နည်း။အဲဂုတ္တု
ပြည်မှရထားများ၊မြင်းစီးသူရဲများကိုရမည်ဟု
၂၅ ထင်ပါသည်တကား။-ထာဝရဘုရား၏အခွင့်မရှိ
ဘဲ၊ဤပြည်ကိုဖျက်ဆီးခြင်းငှါ ငါလာသလော။
ထို ပြည် ကို သွား၍ ဖျက်ဆီး လော့ဟု၊ ထာဝရ
ဘုရားသည်ငါ့အားမိန့်တော်မူပြီ။ ဤအကြောင်း
၂၆ အရာများကိုပြန်ပြောကြ လော့ဟုပြောဆို၏။-
ထိုအခါ ဟိလကိသားဧလျာကိမ်၊ ရှေဗန၊ ယော
အာတို့က ရှုရိဘာသာစကားအားဖြင့်ကျွန်တော်
တို့အားပြောမိန့်မူပါလော့။ထိုစကားကိုကျွန်တော်
တို့နားလည်နိုင်ပါ၏။ မြို့ရိုးပေါ်မှာရှိသောသူ
ထိုသည်ကြားရအောင်၊ ယုဒ ဘာသာ စကား
အားဖြင့်အမိန့်မရှိပါနှင့်ဟု၊ရာဗရှာခကိုဆိုကြ
၂၇ လျှင်- ရာဗရှာခက၊ သခင်သည် သင်၏သခင်
နှင့်သင့်အား သာ ဤစကားကို ပြောစေခြင်းငှါ၊
ငါ့ကိုစေလွှတ်တော်မူသလော။ မြို့ရိုးပေါ်မှာထိုင်
လျက်သင်တို့နှင့်အတူ မိမိတို့မစင်ကိုစား၍၊ မိမိ
တို့ရေကောင်းကိုသောက်ရသော သူတို့ရှိရာသို့
စေလွှတ်တော်မူသည် မဟုတ် လောဟု ဆိုပြီး
၂၈ လျှင်၊-ရာဗရှာခသည်ထ၍၊ယုဒဘာသာစကား
အား ဖြင့်၊ ကျယ် သော အသံ နှင့် ကြွေးကြော်
လျက်၊ မဟာအရှင်မင်းကြီး၊အာရှုရိရှင်ဘုရင်၏
၂၉ အမိန့် တော် ကို နား ထောင် ကြ လော့။- ရှင်
ဘုရင်မိန့်တော်မူသည်ကား၊ ဟေဇကိသည်သင်
တို့ကို မလှည့်စားစေနှင့်။ သူသည်သင်တို့ကို ငါ့
၃၀ လက်မှ ကယ်ယူခြင်းငှါ မတတ်နိုင်။- ဟေဇကိ
က၊ ထာဝရဘုရားသည် ငါတို့ကို စေန်အမှန်
ကယ်ယူ တော်မူမည်။ ဤမြို့သည် အာရှုရိ ရှင်
ဘုရင်လက်သို့မရောက်ရဟုဆိုသဖြင့်၊ ထာဝရ
၃၁ ဘုရားကိုမကိုးစားစေနှင့်။- ဟေဇကိစကားကို
၃၂ နားမထောင်ကြနှင့်။အာရှုရိရှင်ဘုရင်မိန့်တော်
မူသည်ကား၊ ငါနှင့်မိဿဟာယဖွဲ့ကြ၍ငါ့ထံသို့
ထွက်လာကြ။ သင်တို့သည်မသေ၊ အသက်ရှင်
မည်အကြောင်း၊ သင်တို့ပြည်နှင့်တူသောပြည်
တည်းဟူသော ဆန် စပါး စပျစ်ရည်နှင့် ပြည့်စုံ
သော ပြည်၊ မုန့်နှင့် စပျစ် ဥယျာဉ်၊ သံလွင်ဆီ၊
ပျားရည်များသောပြည်သို့ပို့ခြင်းငှါ၊ငါမလာမှီ
တိုင်အောင် သင်တို့သည် ကိုယ်စပျစ်ပင်၏ အ
သီး၊ကိုယ်သင်္ဘောသဖန်းပင်၏အသီးကိုစား၍၊
ကိုယ်ရေကန်ကရေကိုသောက်လျက် နေကြဦး
၃၃ လော့။-ဟေဇကိက၊ထာဝရဘုရားသည်ငါတို့
ကိုကယ်ယူတော်မူမည်ဟုမြွားယောင်းစေနှင့်။
အပြည်ပြည်သော ဘုရားတို့သည် မိမိတို့ပြည်
များကိုအာရှုရိရှင်ဘုရင်လက်မှကယ်လွှတ်ကြ
၃၄ ပြီလော။- ဟာမတ်ပြည်၏ဘုရား၊ အာပဒ်ပြည်
၏ဘုရားတို့သည် အဘယ်မှာရှိကြသနည်း။သေ
ဖရဝိမ်ပြည်၊ဟေနပြည်၊ ဣဝါပြည်၏ဘုရားတို့
သည် အဘယ်မှာ ရှိကြ သနည်း။ သူတို့သည်ရှ
မာရိပြည်ကိုငါ့လက်မှကယ်လွှတ်ကြပြီလော။-
၃၅ ထို အပြည်ပြည်သော ဘုရား တို့တွင်၊ အဘယ်
မည် သော ဘုရား သည် မိမိပြည်ကို ငါ့လက်မှ
ကယ်လွှတ် သနည်း။ ထာဝရဘုရား သည်
ယေရုရှလင်မြို့ကို ငါ့လက်မှ အဘယ်သို့ ကယ်

၃၆ ရှုတ် နိုင်စေသည် နည်းဟု ဆိုသော်၊- လူစု လူတို့
သည်။ စကားတခွန်းကိုမျှ မပြန်ဘဲတိတ်ဆိတ်
စွာနေကြ၏။ အကြောင်း၊ မူကား၊ ပြန်မပြောနှင့်
ဟုရှင်ဘုရင်အမိန့်တော်ရှိသတည်း။
၃၇ ထိုအခါဟိလခိသားဖြစ်သောနန်းတော်အုပ်
ဧလျာကိမ်၊ စာရေးတော်ကြီး ရှေဗနှ၊ အာသပ်
သား အတွင်း ဝန်ယောအာ တို့သည် မိမိတို့ အ
ဝတ်ကိုဆုတ်လျှက်၊ ဟေဇကိမင်းထံသို့လာ၍၊
ရာဗရှာခစကားကိုကြားလျှောက်ကြ၏။

၁၉

၁ ထို စကားကို ဟေဇကိ မင်းကြီး သည် ကြား
လျှင်၊မိမိအဝတ်ကိုဆုတ်၍လျှော်တေအဝတ်ကို
၂ ရုံလျှက် မိတ်မှန်တော်သို့ သွားလေ၏၊- လျှော်
တေအဝတ်ကိုဝတ်လျှက်ရှိသော နန်းတော်အုပ်
ဧလျာကိမ်၊ စာရေးတော်ကြီး ရှေဗနှ၊ အသက်
ကြီးသောယဇ်ပုရောဟိတ်တို့ကို အာမုတ်သား
ပရောဖက် ဟေရှာယ ထံသို့ စေလွှတ် လေ၏၊-
၃ ဟေဇကိမင်း မှာထားသော စကား ဟူမူကား၊
ယနေ့ သည်ဒုက္ခနေ့၊ ဆုံးမသောနေ့၊ ကဲ့ရဲ့ခြင်းကို
ခံရသောနေ့ဖြစ်၏၊ သားဖွားမြိန်ရောက်၍သား
၄ ကို ဖွားနိုင်သောအင် ခွန်အားမရှိ၊- အသက် ရှင်
တော် မူသော ဘုရား သခင်ကို ကဲ့ရဲ့ စေခြင်းငှါ၊
အာရှုရိ ရှင်ဘုရင် စေလွှတ်သော မိမိကျွန်ရာဗ
ရှာခစကားကိုသင်၏ဘုရားသခင် ထာဝရဘုရား
ကြားတော် မူပါစေသော၊ သင်၏ ဘုရား သခင်
ထာဝရဘုရားသည်ကိုယ်တော်တိုင်ကြားသော
စကားကို ရှုတော် မူ ပါစေ သော၊ သင် သည်
လည်း ကျန်ကြွင်းသောလူတို့အဘို့ဆုတောင်းပ
၅ ဌနာပြုပါဟုပြောစေခြင်းငှါ-ဟေဇကိ မင်းစေ
လွှတ်သောကျွန်တို့သည်ဟေရှာယထံသို့ရောက်
လာကြ၏။
၆ ဟေရှာယကလည်း။ ထာဝရဘုရားမိန့်တော်
မူသည်ကား၊ အာရှုရိရှင်ဘုရင်၏ကျွန်တို့သည်
ငါ့ကို ကဲ့ရဲ့ ၍၊ သင် သည် ကြား ရ သော စကား
၇ ကြောင့်မကြောက်နှင့်၊- ထိုမင်း၌ အခြားသော
စိတ်သဘောကို ငါသွင်း ပေးမည်၊ သူသည်သိ
တင်းကြား၍၊မိမိပြည်သို့ပြန်သွားလိမ့်မည်၊ထို
ပြည်၌ ထားဖြင့် ငါဆုံးစေမည် ဟူသော စကား
တော်ကိုသင်တို့၏သခင်အားပြန်ကြားကြလော့
ဟုပြောဆို၏။
၈ ထိုအခါ အာရှုရိ ရှင်ဘုရင်သည် လာခိရှမြို့မှ
ထွက်သွား[illegible] ရာဗရှာခ ကြား လေ[illegible]
ပြန်သွား၍၊လိဗနမြို့ကိုရှင်ဘုရင်တိုက်နေသည်
၉ ကိုတွေ့သော်၊- နောက်တဖန် ကုရှမင်းကြီး တိ
ရက္ကာသည်စစ်ရှိ၍လာပြီဟု၊သိတင်းကြားသော
အခါ၊ ဟေဇကိမင်းထံသို့ တမန်တို့ကိုစေလွှတ်
၁၀ ပြန်၍- သင်တို့သည် ယုဒ မင်းကြီး ဟေဇကိကို
ပြော ရ သော စကား ဟူ မူ ကား၊ သင် ကိုးစား
သော ဘုရားသခင်က၊ ယေရုရှလင်မြို့သည်အာ
ရှုရိရှင်ဘုရင်လက်သို့ မရောက်ရဟူ၍၊ သင့်ကို
၁၁ မလှည့်စားစေနှင့်၊- အာရှုရိရှင် ဘုရင်တို့သည်
ခပ်သိမ်းသောပြည်တို့ကို လုပ်ကြ၍၊ ရှင်းရှင်း
ဖျက်ဆီးကြောင်းကိုသင်သည်ကြားရပြီ၊ကိုယ်
၁၂ တိုင်လွတ်လိမ့်မည်လော၊- ငါ့ဘိုးတေးတို့သည်
ဖျက်ဆီးသောအမျိုးသား၊ဂေါဇန်အမျိုးသား၊
ခါရန် အမျိုးသား၊ ရေဇပ် အမျိုးသား၊ တေလ
သာမြို့၌ ရှိသောဧဒင်အမျိုးသားတို့ကို၊သူတို့၏
၁၃ ဘုရားများတို့သည်ကယ်ယူကြပြီလော၊ ဟာ
မတ်မင်းကြီး၊အာပဒ်မင်းကြီးနှင့်သေဖရဝိမ်မြို့၊
ဟေနမြို့၊ ဣဝါမြို့ကိုစိုးစံသောမင်းကြီးတို့သည်
အဘယ်မှာရှိကြသနည်းဟုမှာလိုက်လေ၏။
၁၄ ထိုမှာစာကိုဟေဇကိမင်းသည်သံတမန်လက်
မှခံယူ၍ ကြည့်ပြီးလျှင်၊ မိတ်မှန်တော်သို့ သွား
၍၊ ထာဝရဘုရားရှေ့တော်၌ဖြန့်ထားသော်၊-
၁၅ ထိုအခါ ဟေဇကိမင်းသည် ထာဝရ ဘုရားရှေ့
တော်၌ လျှောက်ဆို သည်ကား၊ ခေရုဗိမ် ပေါ်
မှာထိုင်တော်မူသောဣသရေလအမျိုး၏ဘုရား
သခင် ထာဝရဘုရား၊ ကိုယ်တော်သည် ဘုရား
သခင် ဖြစ်တော် မူ ၏၊ ကိုယ်တော် တပါး တည်း
သာလျှင်၊ မြေကြီးပေါ်မှာရှိသမျှသော အတိုင်း
တိုင်း၊ အပြည်ပြည်တို့၏ ဘုရားသခင် ဖြစ်တော်
မူ၏၊ ကိုယ်တော်သည် ကောင်းကင်နှင့်မြေကြီး
၁၆ ကိုဖန်ဆင်းတော်မူ၏၊- အိုထာဝရဘုရား၊ နား
တော်ကိုလှည့်၍ နားထောင်တော်မူပါ၊ အိုထာ
ဝရဘုရား၊ မျက်စိတော်ကိုဖွင့်၍ကြည့်ရှုတော်
မူပါ၊ သနာခရိပ် မင်းသည် အသက်ရှင်တော်မူ
သော ဘုရား သခင်ကို ကဲ့ရဲ့၍ ပြောစေ သော
၁၇ စကားအလုံးစုံတို့ကိုမှတ်တော်မူပါ၊-အိုထာဝရ
ဘုရား၊ အကယ် စင်စစ် အာရှုရိ ရှင် ဘုရင် တို့
သည်အတိုင်းတိုင်း၊အပြည်ပြည်တို့ကို ဖျက်ဆီး၍-
၁၈ သူတို့၏ဘုရားများကို မီးထဲသို့ချပစ်ကြပါ
ပြီ၊ ထိုဘုရား တို့သည် ဘုရားမဟုတ်၊ လူလက်
ဖြင့် လုပ်သောသစ်သားနှင့် ကျောက်ဖြစ်သော
၁၉ ကြောင့်၊ ဖျက်ဆီး ခြင်းသို့ ရောက်[illegible]ပါပြီ။- အို

အချုပ်တို့ ဘုရားသခင်ထာဝရဘုရား၊ ကိုယ်တော်သာဝရဘုရားတပါးသာဘုရားသခင်ဖြစ်တော်မူသည်ကို၊ မြေကြီးပေါ်မှာ ရှိသမျှသော တိုင်းနိုင်ငံတို့သည် သိမည် အကြောင်း၊ အချုပ်တို့ကို ထိုမင်း၏လက်မှ ကယ်တင်တော်မူပါ၊ အကျွန်ုပ်တောင်းပန်ပါသည်ဟုပဌနာပြုလေ၏။

၂၀ ထိုအခါ အာမုတ်သား ဟေရှာယသည်ဟေဇကိမင်းထံသို့စေလွှတ်၍၊ ဣသရေလအမျိုး၏ဘုရားသခင် ထာဝရဘုရား မိန့်တော်မူသည်ကား၊ သင်သည် အာရှုရိရှင်ဘုရင် သနာခရိပ်အကြောင်းကြောင့်၊ ငါ့ရှေ့မှာ ပြုသော ပဌနာ
၂၁ စကားကိုငါကြားရပြီ။- ထိုမင်း၏အမှုမှာထာဝရဘုရား မိန့်တော်မူသော စကားဟူမူကား၊ ဇိအုန်သတို့သမီးကညာသည် သင့်ကိုမထီမဲ့မြင်ပြု၍ကျက်ရယ်၏၊ ယေရုရှလင်သတို့သမီးသည်သင့်
၂၂ နောက်၌ခေါင်းညိတ်၏။-သင်သည်အဘယ်သူကိုကဲ့ရဲ့ ဆဲရေးသနည်း၊ အဘယ်သူကိုအော်ဟစ်၍ မျက်နှာ ထောင်လွှားသနည်း၊ ဣသရေလအမျိုး၏ သန့်ရှင်းသော ဘုရားကိုပင် ပြုပါ
၂၃ သည်တကား။- သင်သည် တမန်များအားဖြင့်ထာဝရ ဘုရားကိုကဲ့ရဲ့၍၊ ငါသည် ရထားများပြားသောဖြင့်၊တောင်ထိပ်သို့၎င်းလေဗနုန်တောင်အထွဋ်သို့၎င်း တက်လာပြီ၊ အရပ်မြင့်သောအာရဇ်ပင်နှင့်၊ အကောင်းဆုံးသော ထင်းရူးပင်တို့ကိုငါခုတ်လှဲပြီ၊အဝေးဆုံးသောမိုးတွ
၂၄ ရာ၊ အသီးများသော တောထဲသို့ ငါဝင်ပြီ။- ငါသည်တွင်းတူး၍မြည်းသူ့သောရေကိုသောက်ရပြီ၊ ငါ၏ခြေဖဝါးအားဖြင့်အဲဂုတ္တုမြစ်လက်ကြားရေရှိသမျှကိုခန်းခြောက်စေပြီဟု၊သင်ဆို
၂၅ ပြီတကား။- ငါသည် အထက်က ဤအမှုကို စီရင်ကြောင်းနှင့်၊ရှေးကာလ၌ ပြုတွင်ကြောင်းကိုသင်သည်မကြားသလော၊ ယခုမှာလည်း၊သင်သည်ခိုင်ခံ့သောမြို့တို့ကိုဖျက်ဆီး၍၊ကျောက်ပုံဖြစ်စေသောသူဖြစ်မည်အကြောင်း၊ ငါစီရင်ခန့်
၂၆ ထားသပြီ။- ထိုကြောင့် မြို့သားတို့သည် အားနည်းကြ၏၊ မှိုင်တွေ၍ စိတ် ပျက်လျက် ရှိကြ၏၊ တောမြက်ပင်နှင့် နုသော စပါးပင် ကဲ့သို့၎င်း၊ အိမ်မိုးပေါ်မှာပေါက်သော မြက်ပင်နှင့်မကြီးမှီ
၂၇ ညှိုးနွမ်းသောစပါးပင်ကဲ့သို့၎င်းဖြစ်ကြ၏။-သင်၏နေထိုင်ခြင်း၊ထွက်ဝင်ခြင်း၊ငါ့၌အမျက်ထွက်
၂၈ ခြင်းတို့ကို ငါသိ၏။- ငါ့၌ သင်၏ အမျက်ထွက်ခြင်း၊စော်ကားခြင်းကိုငါကြားရသောကြောင့်၊ သင့်ကို နှာရွှတ် တပ်၍၊ ဇက်ခွံတပ်ပြီးမှ၊ လာသောလမ်းဖြင့်ပြန်စေမည်။

၂၉ သင်မှတ်ရသော နိမိတ်လက္ခဏာဟူမူကား၊ ယခုနှစ်တွင် အလိုလိုကြီးရင့်သော အသီးအနှံကို၎င်း၊ ဒုတိယ နှစ်တွင်ထိုအတူ ပေါက်သောအရာများကို၎င်း၊ သင် တို့ သည် စားရမည်၊ တတိယ နှစ် တွင် မျိုးစေ့ ကို ကြဲ၍ စပါး ကို ရိတ် ကြလော့၊ စပျစ်ဥယျာဉ်ကိုလည်း စိုက်၍အသီးကို
၃၀ စားကြလော့။- ဘေးလွတ်၍ ကျန် ကြွင်းသော ယုဒအမျိုးသားတို့သည်တဖန်အောက်မှာအမြစ်
၃၁ စွဲ၍၊အထက်မှာအသီးသီးကြလိမ့်မည်။- ကျန်ကြွင်းသောသူတို့သည်ယေရုရှလင်မြို့ထဲက၎င်း၊ ဘေး လွတ်သော သူတို့သည် ဇိအုန် တောင်ပေါ်က၎င်း ပေါ်လာကြလိမ့်မည်၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားသည် အလိုတော်အားကြီး၍၊ထိုအမှုကိုစီရင်တော်မူလိမ့်မည်။

၃၂ ထို့ကြောင့်၊ ထာဝရ ဘုရားသည် အာရှုရိ ရှင်ဘုရင်ကိုရည် မှတ်၍မိန့် တော်မူသည်ကား၊ ထိုသူသည်ဤမြို့သို့ မဝင်ရ၊ မြို့ထဲသို့ မြှားကိုမပစ်ရ၊ မြို့ရှေ့မှာဒိုင်းလွှားကိုမပြရ၊မြို့ပြင်မှာမြေရိုးကိုစု
၃၃ မှီရ။- လာသောလမ်းဖြင့်ပြန်သွားရမည်၊ဤမြို့
၃၄ ထဲသို့မဝင်ရ။- ငါသည်ကိုယ်မျက်နှာကို၎င်း၊ ငါ့ကျွန်ဒါဝိဒ်၏မျက်နှာကို၎င်းထောက်၍၊ ဤမြို့ကိုကယ် တင် ခြင်းငှါ စောင့်မ မည် ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။

၃၅ ထိုညဉ့်တွင်ထာဝရဘုရား၏ကောင်းကင်တမန်သည်ထွက်၍၊အာရှုရိတပ်တွင်၊ လူတသိန်းရှစ်သောင်း၊ ငါးထောင်တို့ကို ဒဏ်ခတ်လေ၏။ နံနက်စောစောထ မြို့နံရောက်သောအခါ၊ ထိုသူအပေါင်း တို့ သည် အသေ ကောင် ဖြစ်ကြ၏။-
၃၆ အာရှုရိရှင်ဘုရင်သနာခရိပ်သည်လည်း၊ထိုအရပ်မှ ထွက်၍ ပြန် သွားပြီးလျှင်၊နိနေဝေမြို့၌နေ
၃၇ လေ၏။- နောက် တဖန် သူသည် မိမိ ဘုရားနိသရုတ်၏ ဗိမာန်၌ကိုးကွယ်စဉ်တွင်၊ သားတော်အာဒြမ္မလက် နှင့် ရှရေဇာ သည် ခမည်းတော်ကိုထားနှင့်သတ်ပြီးလျှင်၊အာရမနိပြည်သို့ပြေးကြ၏၊ သား တော် ဧသရဟဒ္ဒုန် သည် ခမည်းတော်အရာ၌နန်းထိုင်၏။

## ၂၀

၁ ထိုကာလအခါ၊ ဟေဇကိမင်းသည်သေနာ၌အဖြစ်၊ အာမုတ်သား ပရောဖက် ဟေရှာယ

သည် ထော်၍၊ ထာဝရ ဘုရား မိန့်တော် မူသည်
ကား၊ ကိုယ်အိမ်အမှုကိုစီရင်လော့၊ သင်သည်
အသက်မရှင်၊သေရမည်ဟု၊အမိန့်တော်ကိုပြန်
၂ လေ၏။-ဟေဇကိမင်းသည်လည်း၊ထရံသို့မျက်
၃ နှာလှည့်၍၊ ဆိုထာဝရ ဘုရား၊ အကျွန်ုပ် သည်
ရှေ့တော်၌ သစ္စာစောင့်လျက်၊ စုံလင်သောစိတ်
နှလုံးနှင့် ကျင့်၍၊ နှစ်သက်တော် မူသည်အ
တိုင်းပြုကြောင်းကို အောက်မေ့ တော်မူပါ။ အ
ကျွန်ုပ်တောင်းပန်ပါ၏ဟု၊အလွန်ငိုကြွေးလျက်
၄ ထာဝရဘုရားကိုဆုတောင်းလေ၏။-ယေရှာယ
သည်နန်းတော်အလယ်တန်တိုင်းသို့မရောက်မှီ၊
ထာဝရ ဘုရား၏ နှုတ် ကပတ်တော် ရောက်၍-
၅ သင်သည်ငါ့လူတို့၏မှူးဟေဇကိမင်းထံသို့
တဖန် သွားပြီးလျှင်၊ သင့်အဘဒါဝိဒ်၏ဘုရားသ
ခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်၏
ပဌနာစကားကိုငါကြားပြီ၊ သင်၏မျက်ရည် ကို
လည်းငါမြင်ပြီ၊သင်၏အနာကိုငါပျောက်စေသ
ဖြင့်၊သင်သည်သုံးရက်လွန်လျှင်၊ဗိမာန်တော်
၆ သို့တက်ရလိမ့်မည်။- သင့်အသက်၌ တဆယ်
ငါးနှစ်ကို ငါဆက်၍ပေးမည်။ သင်နှင့် ဤမြို့ကို
အာရှုရိရှင်ဘုရင်လက်မှ ငါကယ်နှုတ်မည်။ င
မျက်နှာ ကိုငဲ့၊ ငါ့ကျွန် ဒါဝိဒ်၏ မျက်နှာ ကို ငဲ့
ထောက်၍၊ဤမြို့ကိုကွယ်ကာစောင့်မမည်အရာ
၇ ကိုပြောလော့ဟု မိန့်တော်မူ၏။- ယေရှာယ က
လည်း၊သင်္ဘောသဖန်းသီးမုန့်ထုံးအထွေးကိုယူ
ခဲ့လော့ဟု ဆိုသည်အတိုင်း၊ ယူခဲ့၍အနာကိုဖုံ
ပြီး၍မင်းကြီးအသက်သာလေ၏။
၈ ဟေဇကိမင်းကလည်း၊ ထာဝရဘုရားသည်
ငါ့အနာကို ပျောက် စေ၍ သုံး ရက် လွန်လျှင်၊ ငါ
သည်ဗိမာန်တော်သို့ တက်လိမ့်မည်ဆိုသော်၊
အဘယ် လက္ခဏာ သက်သေ ရှိသနည်းဟု မေး
၉ လျှင်- ယေရှာယက၊ ထာဝရဘုရားအမိန့်တော်
ရှိသည်အတိုင်းပြုတော်မူမည်ဟု၊ ထာဝရဘုရား
သည် သင့်အား ပေးတော် မူ သော လက္ခဏာ
သက်သေဟူမူကား၊ အရိပ်သည်ဆယ်ချက်တိုး
ရမည် လော၊ ဆယ်ချက် ဆုတ်ရ မည် လော ဟု
၁၀ မေးသော်-ဟေဇကိက၊ အရိပ်သည်ဆယ်ချက်
တိုးလွယ်၏၊ထိုသို့အလိုမရှိ၊ဆယ်ချက်ဆုတ်ပါ
၁၁ စေဟုပြန်ပြော၏။- ပရောဖက်ယေရှာယသည်
လည်း၊ ထာဝရဘုရားအားဆုတောင်းသော်အ
ခါ၊အာခတ်၏နေတိုင်းနာရီပေါ်မှာဆယ်ချက်ရွေ့
ပြီးသောအရိပ်ကို ဆယ်ချက်ပြန်စေတော်မူ၏။

၁၂ ထိုကာလအခါဗာလဒန်သား၊ ဗာဗုလုန်မင်း
ကြီး ဗေရောဒ ဗာလဒန်သည်၊ ဟေဇကိမင်း နာ
၍ အနာ ပျောက် သည်ကို ကြား၊ သော့ ကြောင့်၊
ပေဏ္ဏာ စာနှင့် လက်ဆောင် ပါလျက် တမန်တို့
၁၃ ကိုစေ လွှတ် လေ၏။- ဟေဇကိမင်းသည် သူတို့
ရောက် သောကြောင့် ဝမ်းမြောက်၍၊ ဘဏ္ဍာတိုက်
ရှိသော ရွှေ၊ ငွေ၊ နံ့သာမျိုး၊ အဖိုးထိုက်သောနံ့
သာဆီ၊ လက်နက်တိုက် နှင့်ဘဏ္ဍာတော်အဆုံး
စုံတို့ကို ပြလေ၏။ နန်းတော်မှစ၍ နိုင်ငံတော်အ
ရပ်ရပ်၌ မပြသောအရာတစုံတခုမျှမရှိ။
၁၄ ထိုအခါ ပရောဖက်ယေရှာယ သည် ဟေဇကိ
မင်းကြီး ထံတော် သို့ သွား၍၊ ထိုလူတို့ သည် အ
ဘယ်သို့ပြောကြပါသနည်း၊ အဘယ်ပြည်မှအ
ထံတော်သို့ လာကြပါသနည်းဟု မေးလျှောက်
သော်၊ ဟေဇကိမင်းက၊ ဝေးသော အရပ်ဗာဗု
လုန်ပြည်မှ ရောက်လာ ကြသည် ဟု ပြန် ပြော
၁၅ ၏။- နန်းတော်၌အဘယ် အရာကိုမြင်ကြပြီနည်း
ဟုမေး၊ပြန်လျှင်၊ဟေဇကိမင်းက၊ နန်းတော်၌ရှိ
သမျှကို မြင်ရ ကြပြီ။ ဘဏ္ဍာ တော် ထွင်း ငါ မပြ
၁၆ သော အရာတစုံတခုမျှ မရှိဟု ပြန်ပြော၏။- ထို
အခါ ယေရှာယ က၊ ကောင်း ကင် ဗိုလ် ခြေ အ
ရှင် ထာဝရ ဘုရား၏ နှုတ် ကပတ် တော်ကို နား
၁၇ ထောင်လော့။- နန်းတော်၌ရှိသမျှကို၎င်း၊ ယနေ့
တိုင်အောင် ဘိုးဘေး တို့သည် ဆည်းပူးသမျှကို
၎င်း၊ဗာဗုလုန်မြို့သို့ယူသွားရသောကာလသည်
ရောက်လိမ့်မည်။ တစုံတခုမျှ မကျန်ကြွင်းရဟု
၁၈ ထာဝရဘုရားမိန့်တော်မူ၏။- သင်နှင့် ထွက်၍ရ
သောသင်၏ သားမြေးတို့ကို လည်း ယူ သွား၍၊
သူ တို့ သည် ဗာဗုလုန် ရှင်ဘုရင်၏ နန်း တော်၌
လုလင်တော်လုပ်ရကြလိမ့်မည်ဟု၊ဟေဇကိမင်း
၁၉ အားပြောဆိုလေ၏။- ဟေဇကိ မင်းကလည်း၊
သင် ပြန် ရ သော ထာဝရ ဘုရား၏ နှုတ် ကပတ်
တော်ကောင်းပါ၏ဟူ၍၎င်း၊ အကယ်၍ ငါ၏
လက်၌ ငြိမ်သက် ခြင်း၊ နှင့် သစ္စာ စောင့် ခြင်း ရှိ
လျှင်၊ ကောင်းပါသည် မဟုတ်လော ဟူ၍ ၎င်း၊
ယေရှာယအား ဆိုလေ၏။
၂၀ ဟေဇကိပြုမူသော အမှုအရာ ကြွင်းသေးသမျှ
တို့ နှင့် တန်ခိုး ကြီး ခြင်း၊ ရေကန် နှင့် ရေမြောင်း ကို
လုပ်၍မြို့ထဲသို့ ရေကိုဆောင်ခြင်းအရာတို့သည်
၂၁ ယုဒ ရာဇဝင်၌ ရေးထားလျက်ရှိ၏။- ဟေဇကိ
သည်ဘိုးဘေးတို့နှင့် အိပ်ပျော်၍၊ သားတော်မ
နာရှေသည်ခမည်းတော်အရာ၌နန်းထိုင်၏။

၂၁

၁ မနာရှေသည် အသက် တဆယ်နှစ်နှစ်ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ ငါးဆယ်ငါး
နှစ်စိုးစံလေ၏။ မယ်တော်ကား၊ ဟေဖဇိဗာအမည်
၂ ရှိ၏။ ထိုမင်းသည်ဣသရေလအမျိုးသားရှေ့မှ၊
ထာဝရဘုရား နှင်ထုတ်တော်မူသော တပါး
အမျိုးသား၊ ရွံရှာဘွယ်ထုံးစံ အတိုင်း၊ ထာဝရ
၃ ဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၏။-ခမည်းတော်
ဟေဇကိယဖျက်ဆီးသော ကုန်းတို့ကိုပြုပြင်၍၊ ဣ
သရေလ ရှင်ဘုရင် အာဟပ် ပြုသကဲ့သို့၊ ဗာလ
အဘို့ယဇ်ပလ္လင်တို့ကိုတည်၏၊ အာရှရပင်ကို
လည်းပြုစု၏၊ မိုဃ်းကောင်းကင် တန်ဆာ များ
၄ ကိုလည်းဝတ်ပြုကိုးကွယ်၏။- ယေရုရှလင်မြို့၌
ငါ့နာမကို ငါတည်စေမည်ဟု၊ ထာဝရ ဘုရား
မိန့်တော်မူသောမြို့၊ ဗိမာန်တော်၌ ယဇ်ပလ္လင်
၅ တည်း ဟူသော၊ - ဗိမာန်တော်တန်တိုင်း နှစ်
ရပ်တွင်၊ မိုဃ်းကောင်းကင် တန်ဆာ များ အဘို့
၆ ယဇ်ပလ္လင်တို့ကို တည်၏။- မိမိသားကိုမီးဖြင့်
ပူဇော်၏၊ကာလဗေဒင်ကိုကြည့်တတ်၏၊ပြုစား
သောအတတ်ကို သုံးဆောင်၍၊ စုန်းနှင့်နတ်ဝင်
သည်တို့ကိုလည်း အခွင့် ပေး၏၊ ထာဝရ ဘုရား၏ အ
မျက်တော်ကို နှိုးဆော် ခြင်းငှါ၊ ရှေ့တော်၌ များ
၇ စွာသော ဒုစရိုက်ကို ပြု၏။ - ဤဗိမာန်၌၎င်း၊ ဣ
သရေလ အမျိုးများတို့တွင်၊ ငါရွေးကောက်သော
ယေရုရှလင် မြို့၌၎င်း၊ ငါ့နာမ ကို အစဉ် အမြဲ ငါ
တည်စေမည်ဟု၊ ထာဝရဘုရားသည် ဒါဝိဒ်နှင့်
သား ရှောလမုန် အား မိန့် တော် မူရာ၌၊
ရည်စေခြင်းသော ဗိမာန်တော်ထဲမှာ၊ မိမိ ပြုစု
သော အာရှရပင်နှင့်တူအောင် ထုပ်သောရုပ်တု
၈ ကို တင်ထား၏။ - ငါမှာ ထား၍ သမ္မာ အတိုင်း၊ ငါ့
ကျွန်မောရှေမှာထားသမျှသောတရားအတိုင်း၊
ဣသရေလ အမျိုး သား တို့ သည် ကျင့် ခြင်း ငှါ
အောင့်ရှောက်လျှင်၊ သူတို့ ဘိုးဘေးတို့အား ငါ
ပေးသော ပြည်မှ၊ သူတို့ကို နောက် တဖန်၊ ငါမ
၉ ရွှေ့စေပြောင်းစေဟု၊မိန့်တော်မူသော်လည်း- သူ
တို့သည်နားမထောင်း၊ဣသရေလအမျိုးသားတို့
ရှေ့မှ၊ ထာဝရ ဘုရား ဖျက်ဆီးတော် မူသောလူ
မျိုးတို့ ပြုသည် ထက်၊ သာ၍ ဒုစရိုက် ကို ပြုစေ
ခြင်းငှါ၊မနာရှေသည်သွေးဆောင်လေ၏။
၁၀ ထို့ကြောင့် ထာဝရ ဘုရား သည်၊ မိမိ ကျွန်
၁၁ ပရောဖက်တို့ဖြင့် မိန့်တော်မူသည်ကား၊- ယုဒ
ရှင်ဘုရင် မနာရှေသည် ထိုရွံရှာ ဖွယ်ဘွယ်သော
အာမောရိ လူတို့ပြုသမျှထက်သာ၍ ရွံရှာဘွယ်
သော ဒုစရိုက်တို့ကို ပြုသောကြောင့်၎င်း၊ မိမိ
ရုပ်တုဆင်းတု အားဖြင့်၊ ယုဒ အမျိုးကို ဒြစ်မှား
၁၂ စေသောကြောင့်၎င်း- ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရား၊ မိန့်တော် မူသည်ကား၊ ထို
သတင်း ကြားသော သူတိုင်း နားမှစ်စေတ် ခါးစေ
ခြင်းငှါ၊ ငါသည် ယေရုရှလင် မြို့၊ ယုဒပြည်၌
၁၃ ဘေးရောက်စေမည်။- ယေရုရှလင်မြို့ အပေါ်မှာ
ရှမာရိမှုည်းကြိုးနှင့်၊ အာဟပ်အမျိုး၏မှိန်ကြိုး
ကိုငါတန်းချမည်၊ ဝုကန်ကိုသုတ်၍၊ သုတ်ပြီးမှ
မှောက်ထား သကဲ့သို့၊ ယေရုရှလင်မြို့ကို ငါပြု
၁၄ မည်။- ကျန်ကြွင်းသော ငါ့အမွေ လူတို့ကို ငါစွန့်
၍၊ ရန်သူလက်သို့အပ်သဖြင့်၊ သူတို့သည်ရန်သူ
အပေါင်းတို့၏ လုယက် နှိပ်စက်ရာ ဖြစ်ကြလိမ့်
၁၅ မည်။-အကြောင်းမူကား၊ ဘိုးဘေးတို့သည်အဲ
ဂုတ္တုပြည်က ထွက်သော နေ့မှစ၍ ယနေ့ တိုင်
အောင်၊ အစဉ် အဆက် ထိုသည် ငါ့ရှေ့မှာ ဒုစ
ရိုက်ကိုပြု၍၊ ငါ့အမျက်ကို နှိုးဆော်ကြပြီဟုမိန့်
တော်မူ၏။
၁၆ မနာရှေသည် ထာဝရဘုရား၊ ရှေ့တော်၌ ဒုစ
ရိုက်ကိုပြု၍၊ ယုဒအမျိုးကိုဒြစ်မှားစေသောအ
ပြစ်မှတပါး၊ အပြစ် မရှိသောသူ အများတို့ကို
သတ်၍၊ ယေရုရှလင်မြို့တခတ်မှ တခတ် တိုင်
အောင်သူတို့အသွေးနှင့် ပြည့်စေခြင်းငှါ ပြု၏။-
၁၇ မနာရှေပြုစုသော အမှုအရာ ကြွင်းသေ သမျှတို့
နှင့်၊ဒြစ်မှားသောအပြစ်တို့သည်ယုဒရာဇဝင်၌
၁၈ ရေးထားလျက်ရှိ၏။- မနာရှေသည်ဘိုးဘေးတို့
နှင့် အိပ်ပျော်၍၊ ဩဇာဥယျာဉ်တည်း ဟူသော၊
မိမိအိမ်နှင့် ဆိုင်သောဥယျာဉ်၌ သင်္ဂြိုဟ်ခြင်း
ကို ခံလေ၏။ သားတော်အာမုန်သည် ခမည်း
တော်အရာ၌နန်းထိုင်၏။
၁၉ အာမုန် သည် အသက် နှစ်ဆယ် နှစ်နှစ်ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ နှစ်နှစ်စိုးစံ
လေ၏။ မယ်တော်ကားယုတ္တါမြို့သူ၊ ဟာရုဇ်သမီး
၂၀ မေရှုလမက် အမည်ရှိ၏။ - ထိုမင်းသည်ခမည်း
တော် မနာရှေ ပြု သကဲ့သို့၊ ထာဝရ ဘုရား ရှေ့
၂၁ တော်၌ဒုစရိုက်ကိုပြု၏။- ခမည်းတော်လိုက်သ
ွားသောလမ်းသို့လိုက်၏၊ ခမည်းတော်ဝတ်ပြု
သောရုပ်တုဆင်းတု တို့ကိုဝတ်ပြု ကိုးကွယ်၏။-
၂၂ ဘိုးဘေးတို့၏ဘုရားသခင်ထာဝရဘုရားကိုစွန့်
၍၊ထာဝရဘုရား၏လမ်းတော်ကိုလွှဲရှောင်၏။-
၂၃ မိမိ ကျွန်တို့ သည်သစ္စာ ဖောက်၍၊ ရှင်ဘုရင်ကို နန်း

၂၄ တော်၌လုပ်ကြံကြ၏။ — အာရုန်မင်းကြီးတဘက်
၌ထင်းရှားသော သူအပေါင်းတို့ကို ဖြည်ဖျူဖြည်
ထား၍ သူသည် ကွပ် ဖျက်၍၊ သားတော် ယောရှိ
၂၅ ကို ခမည်းတော်အရာ၌နန်းတင်ကြ၏။ — အာရုန်
ပြုမူသောအမှုအရာကြွင်းလေသမျှတို့သည်ယုဒ
၂၆ ရာဇဝင်၌ ရေးထား လျက်ရှိ၏။ — ဩဇဥယည်
တွင်၊ မိမိသင်းချိုင်းတွင်း၌ သင်းဂြိုဟ်ခြင်းကိုခံ
၍၊ သားတော်ယောရှိသည်ခမည်းတော်အရာ၌
နန်းထိုင်၏။

၂၂

၁ ယောရှိသည်အသက်ရှစ်နှစ်ရှိသော်၊နန်းထိုင်
၍ယေရုရှလင်မြို့၌ သုံးဆယ်တနှစ် မိုးခံလေ၏၊
မယ်တော်ကား၊ ဗောဇကတ်မြို့သားအဒါယာ၏
၂ သမီးယေဒိဒါ အမည်ရှိ၏။ — ထိုမင်းသည် ထာဝရ
ဘုရား ရှေ့ တော် ၌၊ တရား သော အမှု ကို ပြု ၍
ထက်ဝါသတ်၊ လက်ဝဲ လက်သို့မလွှဲ၊ အဘ ဒါဝိဒ်
လိုက်သမျှသောလမ်းသို့လိုက်လေ၏။
၃ ယောရှိမင်းကြီး နန်းစံဆယ်ရှစ်နှစ်တွင်၊ မေ
ရှုလံ သား ဖြစ် သော အာဇလိ၏ သား စာ ရေး
တော် ရှာဖန် ကို စေ၍၊ သင် သည် ယဇ် ပရော
၄ ဟိတ် မင်း ဟိလခိထံသို့ သွား လော့။ — မိတ်မှန်
တော်သို့ဆောင်ခဲ့၍၊လူများထက်မှတံခါးစောင့်
ခံထားသောငွေကို ယဇ်ပရောဟိတ်မင်းရေတွက်
၅ သဖြင့်၊-မိတ်မှန်တော်အရာ၊ အမှုတော်စောင့်တို့
၌အပ်၍၊ မိတ်မှန်တော် ပြိုပျက်ရာကို ပြုပြင်ခြင်း
၆ ငှါလုပ် ဆောင် သောသူ - လက်သမား၊ နှင့် ပန်း
ရန်သမား၊ လုပ် သည်အတွက်၊ မိတ်မှန်တော်ပြု
ပြင်စရာကျောက်နှင့် သစ်သားကို ဝယ်သည်အ
တွက်ပေးပေးရမည်အကြောင်း၊ မှာထား၍ မိတ်
၇ မှန်တော်သို့ ဆောင်တော်မူ၏။ - ထိုရာတွင်၊ ထို
ငွေကိုလက်ခံသောသူတို့သည်သစ္စာစောင့်သော
သူဖြစ်သောကြောင့်၊စာရင်းမပေးရကြ။
၈ ယဇ် ပရော ဟိတ် မင်း ဟိလ ခိ က လည်း၊
ပညတ္တိ ကျမ်း စာစောင်ကို မိတ်မှန် တော်၌ ငါ
တွေ့ ပြီဟု၊ စာရေးတော် ရှာဖန် အား ဆိုလျက်၊
၉ ကျမ်းစာကို အပ်၍စာရေးတော်ဖတ်၏။-တဖန်
စာရေးတော် ရှာဖန်သည် ရှင်ဘုရင်ထံသို့သွား
၍၊ ကိုယ်တော် ကျွန် တို့သည် မိတ် မှန် တော် ၌
တွေ့သော ငွေကို မှတ် ပြီးမှ၊ မိတ်မှန် တော်အရာ၊
၁၀ အမှုတော်စောင့်တို့၌ အပ်ပါပြီ ဟု၍ ၎င်း- ယဇ်
ပရောဟိတ် ဟိလခိသည် ကျွန်တော်၌ စာစောင်
တိုအပ်ပါပြီဟု၍ရင်ကြားလျှောက်လျှက်၊ ရှင်

၁၁ ဘုရင် ရှေ့ တော်၌ ဖတ်ရွတ် လေ၏။ — ရှင် ဘုရင်
သည် ပညတ္တိ ကျမ်းစကားကို ကြားလျှင်း မိမိ
၁၂ အဝတ်ကိုဆုတ်၍- ယဇ် ပရောဟိတ် ဟိလခိ၊
ရှာဖန် သား အဟိကံ၊ မိက္ခာသား အာခဗော်၊
စာရေးတော် ရှာဖန်၊ မိမိကျွန် အသယိကို ခေါ်
၁၃ ၍- ထိုရှာတွေ့ သော ကျမ်း စကား ကြောင့် ငါအ
တွက်၊ လူ များ အ တွက်၊ ယုဒ အ မျိုး သား အ
ပေါင်းတို့အတွက်ထာဝရဘုရား၌မေးလျှောက်
ကြပါ၊ ငါတို့အမျိုး၊ ဤကျမ်းစာ၌ ရေးထားသမျှ
သော စကား၊ တို့ ကို ထိုး ထေး တို့ သည် နား မ
ထောင်၊ မ ကျင့် သဲ နေ သောကြောင့်၊ ထာဝရ
ဘုရားသည်ငါတို့၌ပြင်းစွာအမျက်ထွက်တော်
၁၄ မူလိမ့်မည်ဟု မိန့် တော်မူ၏။— ထိုကာလတွင်၊
ထရဟတ် သား ဖြစ် သော တိကဝ၏ သား၊ အ
ဝတ်ဝန် ရှလ္လုံ၏ မယား၊ ပရောဖက်မ ဟုလဒ
သည်ယေရုရှလင်ပြင်မြို့၌နေသည်ဖြစ်၍၊ ယဇ်
ပရောဟိတ်ဟိလခိ၊ အဟိကံ၊ အာခဗော်၊ ရှာဖန်၊
အသယိတို့သည်ထိုမိန်းမထံသို့သွား၍ပြောဆိုကြ
၁၅ ၏။— မိန်းမကလည်း၊ ငါထံသို့စေလွှတ်သော လူထံ
သို့သင်တို့ပြန်၍၊ ဆင့်ဆိုရသော ဣသရေလ အ
မျိုး၏ ဘုရားသခင်ထာဝရဘုရား၏အမိန့်တော်
၁၆ ဟူ မူကား၊ — ယုဒ ရှင် ဘုရင် ဖတ် သော ကျမ်း
စကား လာသမျှ အတိုင်း၊ ငါ သည် ဤအရပ်၌
၎င်း၊ ဤအရပ်သားတို့၌၎င်းဘေးရောက်စေမည်။—
၁၇ အကြောင်းမူကား၊ လူတို့သည် ငါကိုစွန့်ကြပြီး
မိမိ လုပ် သော အရာ တို့ ဖြင့်၊ ငါအမျက် ကို နှိုး
ဆော်ခြင်းငှါ အခြားတပါးသော ဘုရားတို့ ရှေ့
မှာနံ့သာပေါင်းကိုမီးရှို့ကြပြီ၊ ထို့ကြောင့်၊ဤအ
ရပ်၌ ငါအမျက်မီးသည် မငြိမ်းဘဲတောက်လိမ့်
၁၈ မည်ဟု မိန့်တော်မူ၏။— ထာဝရ ဘုရား ကို မေး
လျှောက်စေခြင်းငှါ၊ သင် တို့ကို စေလွှတ် သော
ယုဒ ရှင်ဘုရင် ကြားသော ကျမ်းစကားကို ရည်
ဆောင်၍၊ ဣသရေလ အမျိုး၏ ဘုရား သခင်ထာ
ဝရဘုရားမိန့်တော်မူကြောင်းကို၊ ထိုရှင်ဘုရင်
၁၉ အားတလန်ပြန်လျှောက်ရမည်ကား၊— ဤအရပ်
သားတို့သည်ဖျက်ဆီးရာနှင့်ကျိန်ဆဲရာဖြစ်ရကြ
လိမ့်မည်ဟု ဤအရပ်ကို၎င်း၊ ဤအရပ်သား တို့
ကို၎င်း၊ငါမြွက်ဆိုသောစကားကိုသင်သည်
ကြားသောအခါ၊ နူးညံ့သော မိတ်ရှိ၍ ထာဝရ
ဘုရားရှေ့တော်၌ ကိုယ်ကို နှိမ့်ချခြင်း၊ ကိုယ်အ
ဝတ်ကို ဆုတ်ခြင်း၊ ငါ့ရှေ့မှာ ငိုကြွေးခြင်းကို ပြု
သောကြောင့် သင့်စကားကို ငါနားထောင်၏။—

၂၀ ငါးသပြီ သင့်ကိုထိုးသောနေဝေးရာသို့ပို့ဆောင်၍၊ သင်သည်ငြိမ်ဝပ်စွာသင်းချိုင်းသို့ရောက်ရလိမ့်မည်။ ဤအရပ်၌ ငါရောက်စေမည့်သောဘေးကို သင့်ကိုယ် တိုင် မတွေ့ မမြင် ရ ဟု၊ မိန့် တော် မူကြောင်းကို သင့်ဆိုသည်အတိုင်း၊ သူတို့သည် ရှင်ဘုရင်အားပြန်လျှောက်ကြ၏။

၂၄

၁ ထိုအခါရှင်ဘုရင်သည်ယုဒပြည်သူ၊ ယေရုရှလင်မြို့သား၊ အသက်ကြီးသူ အပေါင်းတို့ကိုခေါ်
၂ ၍–ယုဒပြည်သူ၊ယေရုရှလင်မြို့သား၊ယဇ်ပုရောဟိတ်၊ပရောဖက်၊လူအကြီးအငယ်အပေါင်းတို့နှင့်တကွ၊ မိတ်မှန် တော်သို့ တက် ၍၊ မိတ်မှန်တော်၌တွေ့သော ပဋိညာဉ်ကျမ်းစာ မှသမျှကို
၃ သူတို့ရှေ့မှာဖတ်တော်မူ၏။–ရှင်ဘုရင်ကထ၍၊ ထာဝရဘုရားကိုဆည်းကပ်ပါမည်၊ စီရင်ထုံးဖွဲ့ချက် ပညတ်တရားကို စိတ်နှစ်လုံးအကြွင်းမဲ့ဆောင်ရွက်ပါမည်။ ဤကျမ်းစာ၌ပါသောပဋိညာဉ် စကားအတိုင်း ကျင့်ပါမည်ဟု၊ ထိုင်နားမှာရပ်၍ အမိန့်ခန့်ပြု၏။ လူ အပေါင်း တို့သည်
၄ ထည်း၊ ထိုအမိန့်ခန့်ကို ဝန်ခံကြ၏။– နောက်တစ်န်ထ ယဇ်ပုရောဟိတ်မင်းဟိလခိ၊ ဒုတိယ ယဇ်ပုရောဟိတ် များနှင့် တံခါးစောင့် များ တို့သည် ဗာလဘုရား၊ အာရှရပင်၊ မိုဃ်း ကောင်းကင်တန်ဆာအမှုထုစ်သမျှသောအသုံးအဆောင်တို့ကို မိတ်မှန်တော်ထဲက ထုတ်မည် အကြောင်း၊ ရှင်ဘုရင် ပါရင်အမြင့်၊ ယေရုရှလင် မြို့ပြင်၊ ကေဒြုန်တောင်၌မီးရှို့၍ ပြာကိုဗေသလမြို့သို့ဆောင်
၅ သွားကြ၏။– ယေရုရှလင် မြို့ ပတ် ထည် အစ ရှိသောယုဒ မြို့ရွာ၌ မြင့်သောအရပ်တို့အပေါ်မှာ၊ နံ့သာပေါင်းကိုမီးရှို့စေခြင်းငှါ၊ ယုဒရှင်ဘုရင်ခန့်ထားသော ယဇ်ပုရောဟိတ် တို့ ကို၎င်း၊ ဗာလဘုရား၊ နေ လ ရာသီ စောင့် အစ ရှိ သော မိုဃ်းကောင်းကင် တန်ဆာတို့အား၊ နံ့သာ ပေါင်းကို မီးရှို့သောသူတို့ကို၎င်း၊ သုတ်သင်ပယ်ရှင်းတော်
၆ မူ၏။–အာရှရပင်ကိုထည်း၊ မိတ်မှန်တော်ထဲက ထုတ်၍ယေရုရှလင်မြို့ပြင်၊ ကေဒြုန် ချောင်းသို့ ယူသွားသဖြင့်၊ ထိုချောင်းနားမှာမီးရှို့ပြီးလျှင်၊ ညက်ညက်ချေ၍၊ အမှုန့်ကို ထင်းရှဲ့သား သင်း
၇ ချိုင်းပေါ်မှာ ဖြန့်ကျဲတော် မူ၏။– မိန်းမတို့သည် အာရှရပင်အဖို့ ကုလားကာကို ရက်ရာအရပ်၊ မိတ်မှန်တော်နားမှာ ယောက်ျား အလိုသို့လိုက်တတ်သော မိန်းမလျာတို့နေရာအိမ်များကိုထည်း

၈ ဖျက်တော်မူ၏။– ယဇ်ပုရောဟိတ် အပေါင်းတို့ ကို ယုဒ မြို့ရွာတို့မှခေါ်ခဲ့၍၊ သူတို့သည် နံ့သာ ပေါင်းကို မီးရှို့ရာမြင့်သောအရပ်များကို၊ ဂေဗမြို့မှစ၍ ဗေရရှေဘမြို့ တိုင်အောင် ညစ်ညူးစေ တော်မူ၏။ ယေရုရှလင်မြို့ဝန်ယောရှု၏တံခါးဝ ထက်ဝဲထက်နားမှာတည်သောမြို့တံခါး၏လက်ျာ
၉ ဘက်ကိုထည်း၊ ဖြိုဖျက်တော် မူ၏။– မြင့်သော အ ရပ် နှင့် ဆိုင် သော ယဇ်ပုရောဟိတ် တို့ သည်၊ ယေရုရှလင်မြို့ မိတ်မှန်တော်ယဇ်ပလ္လင်နားသို့ မချည်းရသဲ၊ အပေါင်းအဖော်တို့နှင့် တဆေးမဲ့
၁၀ မုန့်ကိုစားရသောအခွင့်သာရှိကြ၏။– အထက်သူမှာ မိမိ သားသမီးကို မောလုတ် ဘုရားအား မီး ဖြင့် မပူဇော်နိုင်မည်အကြောင်း၊ ဟိန္နုံသား၏ ချိုင့်၌ရှိသောတောဖက်အရပ်ကိုလည်း၊ ညစ်ညူး
၁၁ စေတော်မူ၏။– ယုဒ ရှင်ဘုရင်တို့သည် နေကိုပူဇော်၍၊ မိတ်မှန်တော်ဝင်းပြင်၊ အရာရှိနာသန်မေလက်အိမ်နား၊ ဝင်းတော်တံခါးဝ၌ထားသော မြင်း တို့ကိုလည်း ပယ်ရှား၍၊ နေရထားတို့ကို
၁၂ လည်း မီးရှို့တော်မူ၏။– ယုဒ ရှင်ဘုရင်တို့သည် အာခပ်မင်းတိုက်တော်အထက်ဆင့်အပေါ်မှာ တည်ထားသောယဇ်ပလ္လင်တို့နှင့် မနာရှေမင်း သည်မိတ်မှန်တော်တန်ထိုင်းနှစ်ရပ်တွင်၊ တည် ထားသောပလ္လင်တို့ကိုရှင်ဘုရင်ဖြိုဖျက်၍ အမှုန့်ကို ကေဒြုန်ချောင်းထဲသို့ ပစ်တော်မူ၏။–
၁၃ ဣသရေလ ရှင် ဘုရင် ရှောလမုန် သည် ယေရုရှလင် မြို့ အရှေ့၊ ဖျက်ဆီး ခြင်း တောင်လက်ျာဘက်၌၊ ဇိဒုန်လူတို့ရွံရှာဖွယ်သော မိလ္လုန်ဘုရား၊ အာရှတရက်၊ မောဘလူတို့ရွံရှာဖွယ်သော ခေမုရှ၊ အမ္မုန်လူတို့ ရွံရှာဖွယ်သော မိလ္ကုံ အဖို့တည်သော ကုန်းတို့ကိုလည်း၊ ရှင်ဘုရင်ညစ်ညူးစေ
၁၄ တော်မူ၏။– ရုပ်တုဆင်းတုတို့ကို ဖြိုးခွဲ၍၊ အာရှရပင် တို့ကို ခုတ်လှဲ၍ ပြီးမှ၊ သူတို့တည်ရာ အရပ်များကို လူသေ အရိုးတို့နှင့် ပြည့်စေတော်မူ
၁၅ ၏။– ဣသရေလ အမျိုးကို ပြစ်မှားစေသော နေဗတ်၏သား ယေရောဗောင်သည်၊ ဗေသလမြို့၌ တည်သောကုန်းနှင့်ယဇ်ပလ္လင်ကိုလည်း ဖြိုဖျက်၍ မီးရှို့ပြီးမှ၊ ညက်ညက်ချေတော်မူ၏။ အာရှရပင်
၁၆ ကို ထည်း မီးရှို့တော် မူ၏။– ယောရှိမင်းသည် လှည့်ထည်၍ကြည့်ရှုလျက်၊ ထိုတောင်ပေါ်မှာ ရှိသော သင်းချိုင်းကိုမြင်သောအခါ၊ လူကိုစေလွှတ်၍ ထိုသင်းချိုင်းထဲက လူသေ အရိုးတို့ကို ထုတ် ပြီး လျှင်၊ ထို အမှုကို အထက်က ဟော်ပြ

သော သုံရိုး ထခဲ့၏ ထု ဆင့် ဆိုသော ထာဝရ
ဘုရား၏စကားတော်အတိုင်း၊ အရိုးတို့ကိုယဇ်
ပလ္လင် ပေါ်မှာ မီးရှို့၍ ညစ်ညူးစေတော်မူ၏။-
၁၇ တော၌ မင်းက ထည်း၊ ငါ မြင်သော ထို မှတ်
ကျောက်ကား၊ အဘယ်သို့နည်းဟုမေးလျှင်၊ မြို့
သား တို့ က၊ ကိုယ်တော်သည် ဗေသလ ယဇ်
ပလ္လင်၌ပြုတော်မူသောအမှုကို၊ ဟုဒပြည်မှလာ
၍ဟောပြောသော ဘုရားသခင်၏လူသင်းချိုင်းဖြစ်
၁၈ ပါသည်ဟုပြန်လျှောက်ကြသော်-ရှင်ဘုရင်က၊
ရှိစေတော့၊ ထိုသူ၏ အရိုးတို့ကို အဘယ်သူမျှမ
ရွေ့စေနှင့်ဟု မိန့်တော်မူသည်အတိုင်း၊ သူ၏အ
ရိုးတို့နှင့်ရှမာရိမြို့မှ လာသော ပရောဖက် အရိုး
၁၉ တို့ကိုရှိစေကြ၏။-ဣသရေလရှင်ဘုရင်တို့သည်
အမျက်တော်ကို နှိုးဆော်ခြင်းငှါ၊ ရှမာရိ မြို့ရွာ
တို့၌ မြင့်သော အရပ်ပေါ်မှာ တည် လုပ်သော
အိမ်ရှိသမျှတို့ကိုလည်း၊ ယောရှိမင်းသည်ပယ်
ရှား၍၊ ဗေသလ မြို့၌ ပြုသမျှ အတိုင်း ပြုတော်မူ
၂၀ ၏။-မြင့်သော အရပ်နှင့် ဆိုင်သော ယဇ် ပရော
ဟိတ် အပေါင်းတို့ကို ထည်း၊ ယဇ်ပလ္လင် ပေါ်
မှာကွပ်မျက်၍၊ လူသေ အရိုးတို့ကို မီးရှို့ပြီးမှ၊
ယေရုရှလင်မြို့သို့ပြန်တော်မူ၏။
၂၁ တစ်ဖန်ရှင်ဘုရင်က၊ ဤပဋိညာဉ်ကျမ်း
စာ၌ ပါသည့် အတိုင်း၊ သင်တို့၏ ဘုရားသခင်
ထာဝရ ဘုရား အား၊ ပသခါ ပွဲ ကို ဆောင် ကြ
လော့ ဟု၊ လူ အပေါင်းတို့ကို မိန့် တော် မူ၏။-
၂၂ အကယ် ၍ ဣသရေလ အမျိုးကို အုပ်စိုးသော
တရားသူကြီး ထက်ထက်မှစ၍၊ ဣသရေလရှင်
ဘုရင် နှင့်ယုဒရှင်ဘုရင်ထက်ထက် ကာလပတ်
လုံး၊ ထိုသို့သော ပသခါ ပွဲကိုတစ်ခါမျှ မဆောင်
၂၃ ကြ။-ယောရှိ မင်းကြီး နန်းစံ ဆယ်ရှစ်နှစ်တွင်၊
ထိုပွဲကို ယေရုရှလင် မြို့၌ ထာဝရ ဘုရား အား
ဆောင်ကြသတည်း။
၂၄ ထိုမှတပါး၊မိတ်မှန်တော်၌သင်္ဂြိုဟ်ပရောဟိတ်
ထိ ထမိတွေ့သောကျမ်းစာ၌ ပါသော စကားအ
တိုင်း ကျင့်လိုသောငှါ၊ ယောရှိမင်းသည် စုန်း၊
နတ်ဝင်၊တေရပ်ရုပ်တုမှစ၍ရုပ်တုဆင်းတုများ
တို့နှင့်၊ ယေရုရှလင် မြို့နှင့် ယုဒ ပြည်လုံးတွင် ရှိ
ရှာဖွယ်သော အရာ တွေ့သမျှ တို့ကို ၎င်း၊ သုတ်
၂၅ သင် မယ်ရှင်းတော် မူ၏။- မောရှေ တရား၌ ပါ
သမျှကိုကျင့်သဖြင့်၊ မိတ် နှစ်လုံး အကြွင်းမဲ့အ
စွမ်းသတ္တိရှိသမျှနှင့်၊ ထာဝရဘုရားအထံတော်
သို့ ပြောင်းလဲ၍၊ ယောရှိ မင်းနှင့် တူသော ရှင်
ဘုရင် တယောက်မျှမဖြစ်စဖူး။ နောက်၌ ထသ၌
၂၆ လည်းမပေါ်မရှိ။-သို့ရာတွင်၊မနာရှေသည်ထာ
ဝရဘုရား၏ အမျက်တော်ကို နှိုးဆော် ခြင်းငှါ၊
ဖြစ် ပွားသော အပြစ် ရှိ သမျှ တို့ ကြောင့်၊ ယုဒ
အမျိုး၌ ပြင်းစွာ အမျက် ထွက် ၍ မိတ် တော် မ
၂၇ ပြေ။- ဣသရေလအမျိုးကို ငါဖျက်ဆီးမှပယ်
ရှားသကဲ့သို့၊ ယုဒအမျိုးကိုလည်း ငါပယ်ရှား
မည်၊ ငါ ရွေး ချယ်သော ယေရုရှလင် မြို့ကို၎င်း၊
အကြင် မိတ်မှန် ၌ ငါ နာမကို ငါ တည် စေ မည်
ဟု၊ငါဆိုသောမိတ်မှန်ကို၎င်း၊ငါစွန့်ပစ်မည်ဟု
မိန့်တော်မူ၏။
၂၈ ယောရှိပြုမူသော အမှုအရာကြွင်း သေသမျှ
တို့သည် ယုဒရာဇဝင်၌ ရေးထားလျက် ရှိ၏။-
၂၉ ထိုမင်းလက်ထက်၌၊ အဲဂုတ္တု ဖာရောဘုရင်နေ
ခေါသည် ဥဖရတ်မြစ်တိုင်အောင်၊ အာရှုရိရှင်
ဘုရင်ကို စစ် ချီ၍၊ ယောရှိ မင်း ကြီးသည် ဆီး
တားခြင်းငှါ ထွက်ရာတွင်၊ မေဂိဒ္ဒေါမြို့မှာ မင်း
ချင်းတွေ့သောအခါ၊ ယောရှိမင်းသည် အသက်
၃၀ ဆုံး၏။- ကျွန်တို့သည် ရထားတော် ပေါ်မှာ
တင်ပြီးလျှင်၊ မင်းကြီးသေသည်တွင်မေဂိဒ္ဒေါမြို့
မှယေရုရှလင်မြို့သို့ ဆောင်သွား၍၊ သင်းချိုင်း
တော်၌သင်္ဂြိုဟ်ကြ၏။ ပြည်သူပြည်သားတို့
သည်ယောရှိသားယောခတ်ကိုယူ၍၊ဆီထိုမ်
ပေးလျက်ခမည်းတော်အရာ၌နန်းတင်ကြ၏။
၃၁ ယောခတ်သည် အသက် နှစ်ဆယ် သုံးနှစ်ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ သုံးလ စိုးစံ
လေ၏။မယ်တော်ကား၊ လိဗနမြို့သားယေရမိ၏
၃၂ သမီးဟာမုတာလအမည်ရှိ၏။- ထိုမင်းသည်ဘိုး
ဘေးပြုသမျှအတိုင်း၊ ထာဝရဘုရားရှေ့တော်၌
၃၃ ဒုစရိုက်ကိုပြု၏။-ဖာရောနေခေါသည်ထိုမင်းကို
ယေရုရှလင်မြို့မှာ မင်းမပြုစေခြင်းငှါ၊ ဟာမတ်
ပြည်ရိဗလမြို့မှာ အကျည်းထား၍၊ ယုဒပြည်၌
ငွေအခွက်တရာနှင့် ရွှေအခွက်တဆယ်ကို
၃၄ အခွန် တောင်း လေ၏။- ဖာရော နေ ခေါ သည်
လည်း၊ယောရှိသားဧလျာကိမ်ကို ခမည်းတော်
အရာ၌နန်းတင်၍၊ ယောယကိမ်အမည်သစ်ကို
ပေး၏၊ယောခတ်ကိုအဲဂုတ္တုပြည်သို့ ယူသွား၍
၃၅ ထိုပြည်၌ယောခတ်သည်သေ၏။-ယောယကိမ်
သည်လည်းဖာရောဘုရင်အမိန့်တော်အတိုင်း
တပြည်လုံးတွင်ရွှေငွေခွဲ၍ဖာရောဘုရင်အားအ
ခွန်ဆက်ရ၏။ ပြည်သူ ပြည်သား အသီးအသီး
တို့ကို ရွှေငွေ ခွဲသည် အတိုင်း၊ ခြပ်ထည်း ရွှာ

အမိန့်တော်ရှိသည်အတိုင်း အမြဲတည်ပါစေသော၊
ကိုယ်တော်ကျွန် ဒါဝိဒ်၏အမျိုး၊အနွယ်သည်ရှေ့
၂၅ တော်၌တည်ပါစေသော။— အကြောင်းမူကား၊
အို အကျွန်ုပ်၏ ဘုရားသခင်၊ ကိုယ်တော်က၊
သင်၏အမျိုး၊ အနွယ်ကို ငါတည်စေမည်ဟု၊
ကိုယ်တော်ကျွန်အားဗျာဒိတ် ပေးတော်မူသော
ကြောင့်၊— ကိုယ်တော်ကျွန်သည် ရှေ့တော်၌ပဌ
၂၆ နာပြုချင်သောစိတ်ရှိပါ၏။— ယခုလည်း၊ ထိုထာ
ဝရဘုရား၊ ကိုယ်တော်သည် ဘုရားသခင် မှန်
တော်မူ၏။ ဤကျေးဇူးကိုကိုယ်တော်ကျွန်၌ဂတိ
၂၇ ထားတော်မူပြီ။— သို့ဖြစ်၍၊ ကိုယ်တော်ကျွန်၏
အမျိုး၊ အနွယ် သည် ရှေ့တော်၌ တစဉ်အမြဲ
တည်ပါမည်အကြောင်း၊ကောင်းကြီးပေးခြင်း
ငှါ နှစ်သက်သော စိတ် ရှိတော်မူပါ၊ အိုထာဝရ
ဘုရား၊ ကိုယ်တော်သည်ကောင်းကြီးပေးတော်
မူလျှင်၊ ကောင်းကြီးမင်္ဂလာကို အစဉ်အမြဲခံရ
ပါလိမ့်မည်ဟု ဆုတောင်းသတည်း။

၁၈

၁ ထိုနောက်၊ ဒါဝိဒ်သည် ဖိလိတ္တိလူ တို့ကို လုပ်
ကြံ၍ အောင်မြင်သဖြင့်၊ ဂါသမြို့နှင့်ကျေးလက်
၂ ရွာများကိုသိမ်းယူလေ၏။— မောဘပြည်ကိုလည်း
လုပ်ကြံ၍၊ မောဘ အမျိုးသားတို့သည် ဒါဝိဒ်၌
၃ ကျွန်ခံလျက်၊ အခွန်ဆက်ရကြ၏။— ဇောဘမင်း
ကြီး ဟာဒရေဇာသည်၊ ဥဖရတ်မြစ်နားမှာ မိမိ
နိုင်ငံကိုတည်စေခြင်းငှါ သွားသောအခါ၊ ဒါဝိဒ်
၄ သည်ဟာမတ်မြို့ တိုင်အောင် တိုက် ဖျက်၍- ရ
ထားတထောင်၊ မြင်းစီးသူရဲ ခုနစ်ထောင်၊ ခြေ
သည်သူရဲ နှစ် သောင်း ကို ဝမ်း သိမ်း၍၊ ရထား
တရာကို သိမ်းထားပြီးမှ၊ အခြားသော မြင်း ရ
၅ ထားမြဲသမျှတို့ကိုဖျက်ဆီးလေ၏။— ဒမာသက်မြို့
နေ ရှုရိလူတို့သည်ဇောဘမင်းကြီးဟာဒရေဇာ
ကို စစ်ကူ သော အခါ၊ ဒါဝိဒ် သည် ရှုရိ လူ နှစ်
၆ သောင်း နှစ်ထောင်တို့ကိုသတ်ပြီးမှ- ရှုရိပြည်
ဒမာသက်မြို့၌မြို့စောင့်တပ်ကိုထားသဖြင့်၊ ရှုရိ
လူတို့သည်ဒါဝိဒ်၌ကျွန်ခံ၍အခွန်ဆက်ရကြ၏၊
ဒါဝိဒ် သွား လေ ရာရာ ၌၊ ထာဝရ ဘုရား သည်
၇ စောင့်မတော်မူ၏။— ဟာဒရေဇာ၏ကျွန်တို့စွဲကိုင်
သောရွှေ ဒိုင်းလွှားများကို၊ ဒါဝိဒ်သည် သိမ်း၍
၈ ယေရုရှလင်မြို့သို့ဆောင်သွား၏။— ဟာဒရေဇာ
အပိုင်ရသော တိဗဟတ် မြို့ နှင့် ခုန် မြို့မှ၊ ဒါဝိဒ်
သည် များ စွာသော ကြေးဝါ ကို သိမ်းသွား၏၊
ရှောလမုန်သည်ကြေးဝါရေကန်၊ ကြေးဝါတိုင်၊
ကြေးဝါ တန်ဆာ များကို၊ ထို ကြေးဝါဖြင့် လုပ်
ထတည်း။
၉ ဟာမတ် မင်းကြီး တောဦ သည် ဇောဘာ၏ တပ် အလုံး
အရင်း ကို ဒါဝိဒ် လုပ်ကြံ ကြောင်းကို၊ ဟာမတ်
၁၀ မင်းကြီးတောဦသည်ကြားလျှင်- မိမိရန်သူဟာ
ဒရေဇာကိုဒါဝိဒ်သည်စစ်တိုက်၍လုပ်ကြံသော
ကြောင့်၊ မိဿထာဝယ်ဖို့၍ ကောင်းကြီးပေးစေ
ခြင်းငှါ၊ မိမိသား ဟာဒေါရံကို ဒါဝိဒ်မင်းကြီးထံ
သို့စေလွှတ်၍၊ ဟာဒေါရံသည် ရွှေဝတ္ထု၊ ငွေဝ
တ္ထု၊ ကြေးဝါဝတ္ထု၊ အမျိုးမျိုးတို့ကိုဆောင်ခဲ့
၁၁ လေ၏။— ထိုဝတ္ထုတို့ကို ဒါဝိဒ် မင်းကြီး သည်
ထာဝရဘုရားအားပူဇော်၏၊ ထိုအတူ ဧဒုံပြည်၊
မောဘပြည်၊ အမ္မုန်ပြည်၊ ဖိလိတ္တိပြည်၊ အာမ
လက်ပြည်၊ အပြည်ပြည်တို့မှ ဆောင်ခဲ့သောရွှေ
၁၂ ငွေကိုလည်းပူဇော်၏။— ထိုမှတပါး၊ ဇေရုယာ
သား၊ အဘိရှဲ သည် ဆား ချိုင့် တွင်၊ ဧဒုံ လူ တ
၁၃ သောင်း ရှစ်ထောင် တို့ကို လုပ်ကြံလေ၏။— ဧဒုံ
ပြည်၌ မြို့စောင့်တပ်တို့ကိုထား၍၊ ဧဒုံပြည်သား
အပေါင်း တို့ သည် ဒါဝိဒ်၌ ကျွန်ခံ ကြ၏။ ဒါဝိဒ်
သွားလေ ရာရာ၌ ထာဝရ ဘုရားသည် စောင့်မ
တော်မူ၏။
၁၄ ထိုသို့ဒါဝိဒ်သည် ဣသရေလ နိုင်ငံလုံးကို အုပ်
စိုး၍၊ နိုင်ငံတော်သားတို့တွင်၊ တရားမှုကို စီရင်
၁၅ ဆုံးဖြတ်တော် မူ၏။— ဇေရုယာ၏ သား ယွာဘ
သည် ဗိုလ်ချုပ်မင်း ဖြစ်၏၊ အဟိလုဒ်၏ သား
၁၆ ယောရှဖတ် သည် အတွင်းဝန် ဖြစ်၏။— အဟိ
တုပ်၏သား ဇာဒုတ် နှင့်အဗျာသာ၏သား အဘိ
မလက် သည် ယဇ်ပုရောဟိတ် ဖြစ်၏၊ ရှဝရှ
၁၇ သည်စာရေးတော်ကြီးဖြစ်၏။-ယောယဒ၏သား
ဗေနာယသည် ခေရသိလူနှင့် ပေလသိလူတို့ကို
အုပ်ရ၏၊ ဒါဝိဒ်၏သားတော်တို့သည်လည်း အ
ထံတော်၌မင်းသား အရာနှင့်နေကြ၏။

၁၉

၁ ထိုနောက်၊ အမ္မုန် ရှင်ဘုရင် နာဟတ် သည်
သေ၍၊ သားတော်ဟာနုန်သည်ခမည်းတော်အ
၂ ရာ၌နန်းထိုင်၏။— ဒါဝိဒ်ကလည်း၊ ဟာနုန်အဘ
နာဟတ်သည် ငါ့အားကျေးဇူး ပြုသောကြောင့်၊
သူ၏သား၌ ကျေးဇူးပြုမည်ဟု ဆိုလျက်၊ သူ၏
အဘသေရာတွင်နှစ်သိမ့်စေခြင်းငှါ၊ သံတမန်တို့
ကိုစေလွှတ်၍၊ ဒါဝိဒ်၏ကျွန်တို့သည်ဟာနုန်မင်း
ကို နှစ်သိမ့် စေခြင်းငှါ၊ သူရှိရာ အမ္မုန်ပြည်သို့
၃ ရောက်ကြ၏။— အမ္မုန် အမျိုး မှူးမတ်တို့သည်

ဟာနုန်မင်း၏ထံသို့ဝင်၍၊ ဒါဝိဒ်သည်မိတ်တော်
ကို နှစ်သိမ့်စေသော သူတို့ကို စေလွှတ် ရာတွင်၊
ခမည်းတော်ကို ရိုသေ၍ပြုသည်ထု၊ ထင်မှတ်
တော်မူသလော။ ပြည်တော်ကို စစ်ဆေးစူးစမ်း၍
ဖျက်ဆီးခြင်းငှါသာ၊ သူ၏ကျွန်တို့သည်မင်းထံ
တော်သို့ ရောက်သည်မဟုတ်သလော ဟုလျှောက်
၄ ကြလျှင်- ဟာနုန်သည်ဒါဝိဒ်၏ကျွန်တို့ကိုယူပြီး
လျှင်၊ မုတ်ဆိတ်ကိုရိတ်၍၊ အဝတ်ကိုတင်ပါး၌
၅ ဆောင်ပြတ်ပြီးမှ လွှတ်လိုက်လေ၏။-ထိုသူတို့၌
အဘယ်သို့ပြုသည်ကိုဒါဝိဒ်သည်သိတင်းကြား
သောအခါ၊သူတို့သည်အလွန်ရှက်သောကြောင့်၊
ဆီးကြိုစေခြင်းငှါ စေလွှတ်၍၊ သင်တို့သည် မု
ဆိတ်မရှည်မှီတိုင်အောင်၊ ယေရိခေါမြို့မှာနေ
ကြလော့၊ ထိုနောက်မှ၊ ပြန်လာကြလော့ဟု မှာ
ထားတော်မူ၏။

၆ ဟာနုန်မင်းနှင့် အမ္မုန်အမျိုးသားတို့က၊ ငါ
တို့သည် ဒါဝိဒ်ရှေ့မှာစက်ဆုပ် ရွံရှာဖွယ် ဖြစ်
လိမ့်မည်ဟုသိလျှင်၊ မေသောပေါတာမိပြည်၊
ရှုရိမာခါပြည်၊ဇောဘပြည်တို့၌မြင်းရထားတို့
ကိုငှါး၊ မြင်းငှါး၊ ငွေအခွက် တထောင်းကို ထုတ်
၇ ၍-မြင်းရထား သုံးသောင်း နှစ်ထောင်ကို
၎င်း၊ မာခါမင်းကြီး နှင့်သူ၏လူ တို့ကို၎င်း ငှါး၍ ထ
ဖြင့်၊ထိုသူတို့သည်မေဒဗာမြို့ရှေ့မှာတပ်ချကြ၏။
အမ္မုန် အမျိုးသားတို့သည်လည်း၊ စုဝေး၍၊ အ
၈ မြို့မြို့တို့မှစစ်ချီကြ၏။-ထိုသိတင်းကို ဒါဝိဒ်သည်
ကြားလျှင်၊ ယွာဘနှင့် ခွန်အား ကြီးသောသူရဲ
၉ အလုံးအရင်းအပေါင်းကိုစေလွှတ်၏။- အမ္မုန်
အမျိုးသားတို့သည်ထွက်၍၊ မြို့တံခါးဝမှာ စစ်
ခင်းကျင်း ကြ၏။ စစ်ကူသော မင်းကြီး တို့သည်
၁၀ ထွင်ပြင်၌တခြားစီနေကြ၏။-ယွာဘသည်လည်း
ရှေ့၌၎င်း၊ နောက်၌၎င်း၊ စစ် ရှက်နှာ နှစ်ဖက်ရှိ
သည်ကိုမြင်လျှင်၊ဣသရေလလူတို့တွင်သန်မြန်
သောသူရှိသမျှတို့ကိုရွေးကောက်၍၊ ရှုရိလူတို့
၁၁ တဖက်၌စစ်ခင်းကျင်း၏။- ကြွင်းသောသူတို့ကို
အမ္မုန်အမျိုးသား၊တို့တဖက်၌၊စစ်ခင်းကျင်းစေ
၁၂ ခြင်းငှါ၊ ညီအဘိရှဲ ထံသို့အပ်လျက်- ရှုရိလူ
တို့သည် ငါ့ကိုနိုင်လျှင်၊ သင်အားကူရမည်။ အမ္မုန်
အမျိုးသား တို့သည် သင့်ကိုနိုင်လျှင် သင့်အား
၁၃ ငါကူမည်။-ရဲရင့်သောစိတ်ရှိ၍ငါတို့လူမျိုးနှင့်၊
ငါတို့ ဘုရားသခင် မြို့ရွာတို့အဖို့ အား ထုတ်၍
တိုက်ကြ ကုန်အံ့။ ထာဝရ ဘုရား သည် အလို
တော်ရှိသည်အတိုင်း၊ပြုရစ်တော်မူစေသတည်း။

၁၄ ထိုသို့ပြီးမှ- ယွာဘ ဝါခေါသော လူများနှင့်တကွ ရှုရိ
လူ တို့ကို စစ်တိုက် ခြင်း ငှါ ချဉ်းကပ်သော အ
၁၅ ခါ၊ ရှုရိလူတို့သည် ပြေးကြ၏။- ရှုရိလူတို့ပြေး
သည်ကို အမ္မုန် အမျိုးသားတို့သည် မြင်လျှင်၊
သူတို့ သည်လည်း၊ ညီအဘိရှဲ ရှေ့မှာပြေး၍မြို့
ထဲသို့ ဝင်ကြ၏။ ယွာဘ သည် လည်း၊ ယေရှု
သလင်မြို့သို့ပြန်သွားလေ၏။

၁၆ ရှုရိလူတို့သည် ဣသရေလ အမျိုး သားရှေ့
မှာ၊မိမိတို့ရှုံးသည်ကိုသိမြင်လျှင်၊ သံတမန်တို့
ကို စေလွှတ်၍၊ မြစ်တဖက်၌ နေသောရှုရိ လူတို့
ကိုခေါ်သဖြင့်၊ ဟာဒရေဇာ ခန့်ထားသော ဗိုလ်
၁၇ ချုပ်မင်းရှောဖက်သည်ထည်းအုပ်ရ၏။- ထိုသိ
တင်းကိုကြားလျှင်၊ ဒါဝိဒ်သည် ဣသရေလအ
မျိုးသား အပေါင်း တို့ကို စုဝေးစေ၍၊ ယော်ဒန်
မြစ်ကို ကူး သဖြင့်၊ ရန်သူ ထံ သို့ ရောက်၍စစ်
ခင်းကျင်းနေ၏။ထိုသို့ဒါဝိဒ် စစ်ခင်းကျင်း
၁၈ ၍၊ ရှုရိလူတို့ သည် တိုက်သော အခါ၊- ဣသရေ
လအမျိုးသား ရှေ့မှာ ပြေးကြ၏။- ဒါဝိဒ်သည်
လည်း။ ရှုရိမြင်းရထားစီးသူရဲ ခုနစ်ထောင်း၊ခြေ
သည်သူရဲလေးသောင်းတို့ကို သတ်၍၊ ဗိုလ်ချုပ်
၁၉ မင်းရှောဖက်ကိုလည်း၊ လုပ်ကြလေ၏။- ဟာဒ
ရေဇာ မင်း၏ ကျွန် တို့ သည် ဣသရေလ အမျိုး
သား ရှေ့မှာ၊ မိမိတို့ ရှုံးသည်ကို သိမြင်လျှင်၊ ဒါ
ဝိဒ်နှင့် မိဿဟာယ ဖွဲ့၍ ကျွန်ခံကြ၏။ နောက်
တဖန် ရှုရိ လူ တို့သည် အမ္မုန် အမျိုးသားတို့ကို
စစ်မကူကြ။

၂၀

၁ အခါတည်း၍၊ နှစ်တုရင် ဝိုသည် စစ်တိုက်
ချိန်ရောက်သော အခါ၊ ယွာဘသည် ဗိုလ်ခြေအ
လုံး အရင်းနှင့် ရှိသွားသဖြင့်၊ အမ္မုန် ပြည်ကို
တိုက်ဖျက်၍ ရဗ္ဗာမြို့ကို ဝိုင်းထား၏။ ဒါဝိဒ်သည်
၂ ကိုယ်တိုင် ယေရုရှလင်မြို့၌ နေလေ၏။- ယွာဘ
သည်ရဗ္ဗာ မြို့ကို တိုက် ဖျက် ပြီးမှ၊ ဒါဝိဒ် သည်
မင်းကြီး၏သရဖူကို ချွတ်ယူ၍၊ ခေါင်းတော်ပေါ်
မှာတင်ကြ၏။ သရဖူအချိန်ကား၊ ကျောက်မြတ်
ကိုစဆို သဲ၊ ရွှေ အခွက် တဆယ်ရှိသတည်း။ မြို့
ထဲမှ လုယူသော ဥစ္စာအများကိုလည်း၊ ထုတ်ဆောင်၏-
၃ မြို့သားတို့ကိုလည်း၊ထုတ်၍လွှထိုက်ပုဆိန်၊ ထံ ထွန်
သံပုဆိန်နှင့် ထုပ်ရှုကို ထုပ်စေ၏။ ထိုသို့ ဒါဝိဒ်
သည်အမ္မုန်မြို့ရွာသားအပေါင်းတို့၌ ပြုပြီး
မှ၊ လူ အပေါင်း တို့နှင့်အတူ ယေရုရှလင် မြို့သို့
ပြန်လေ၏။

၄ နောက်တဖန်ဂေဇာမြို့၌၊ ဖိလိတ္တိလူတို့နှင့် စစ်တိုက်ကြစဉ်၊ ဟုရှသိလူ သိဗေခဲသည် ရေဖိမ်အမျိုးသားသိပ္ပဲကိုသတ်၍၊ ဖိလိတ္တိ လူတို့ကိုအောင်
၅ မြင်လေ၏။- နောက် တဖန် ဖိလိတ္တိ လူတို့ကို စစ်တိုက်ကြစဉ်၊ ယာဣရသားဧလဟာနန်သည် ရက်ကန်း လက်ယက်နှင့်အမျှကြီးသော လှံရိုးကို ကိုင်ဆောင်သော၊ ဂိတ္တိအမျိုး ဂေါလျတ်၏ ညီ လာခမိ
၆ ကိုသတ်လေ၏။- နောက်တဖန် ဂါသမြို့မှာ စစ်တိုက် ကြစဉ်၊ အရပ်မြင့်၍ လက်တဘက်၌ လက်ခြောက်ချောင်းစီ၊ ခြေတဘက်၌ခြေခြောက်ချောင်းစီ၊ ပေါင်း နှစ်ဆယ် လေးချောင်းရှိသော
၇ ရေဖိမ်အမျိုးသားတယောက်သည်-ဣသရေလအမျိုးကိုကြိမ်းပသောအခါ၊ ဒါဝိဒ်အစ်ကို ရှိမာ၏သားယောနသန်သည်ထိုသူကို သတ်လေ၏။-
၈ ဤလူတို့သည် ဂါသမြို့၌ ရှိသော ရေဖိမ် လူကြီးသား ဖြစ်၍၊ ဒါဝိဒ်နှင့် သူ၏ ကျွန်တို့ လက်ဖြင့် သေကြ၏။

၂၁

၁ နောက်တဖန်စာတန်သည် ဣသရေလအမျိုး တစ်ဘက်၌ထ၍၊ ဣသရေလအမျိုးသားတို့ကိုရေ
၂ တွက်စေခြင်းငှါ၊ ဒါဝိဒ်ကိုတိုက်တွန်းလေ၏။-ဒါဝိဒ်ကလည်း၊ လူပေါင်းမည်မျှရှိသည်ကို ငါ သိမည် အကြောင်း၊ ဗေရရှေဘမြို့မှသည် ဒန်မြို့ တိုင်အောင်သွား၍၊ ဣသရေလအမျိုးသားတို့ကို ရေတွက်ပြီးလျှင်၊ စာရင်းကို ငါ့ထံသို့ သွင်းစေဟု၊ ဗိုလ်ချုပ်မင်းယွာဘနှင့် အရာရှိတို့အား မိန့်
၃ တော်မူ၏။-ယွာဘကလည်း၊ ထာဝရဘုရားသည် မိမိလူတို့ကို ထပ်၍၊ အဆတရာတိုးပွား စေခြင်းငှါ ပြုတော်မူပါစေသော။ သို့ရာတွင်၊ အရှင်မင်းကြီး၊ ဣသရေလလူ အပေါင်းတို့သည် အရှင်၏ ကျွန်ဖြစ်ပါသည်မဟုတ်လော။ သို့ဖြစ်၍၊ ကျွန်တော်သခင်သည် ဤအမှုကို အဘယ်ကြောင့်မိန့်တော်မူသနည်း၊ ဣသရေလအမျိုး ပြစ်မှားစရာအကြောင်းကို၊ အဘယ်ကြောင့် ပြုတော်မူ
၄ သနည်းဟုလျှောက်လေ၏။- သို့သော်လည်း၊ အမိန့်တော်သည်ယွာဘစကားကို နိုင်သဖြင့်၊ ယွာဘသည်ထွက်၍ ဣသရေလပြည်တရှောက်လုံး
၅ သို့သွားပြီးမှ၊ ယေရုရှလင်မြို့သို့ပြန်လာ၏။- လူပေါင်းစာရင်းကို ဒါဝိဒ်အားဆက်၍၊ ဣသရေလ အမျိုး၌ ဓားကိုင်သူရဲ တသန်းနှင့်တသိန်း၊ ယုဒ အမျိုး၌ ဓားကိုင် သူရဲ လေးသိန်း နှင့် ခုနှစ်
၆ သောင်းရှိ၏။- သို့ရာတွင်၊ ယွာဘသည် အမိန့်တော်ကို ရွံသောကြောင့်၊ လေဝိအမျိုးနှင့် ဗင်ယာမိန်အမျိုးကို အခြားသော အမျိုးထဲသို့ သွင်း၍ မရေတွက်။
၇ ဒါဝိဒ်ပြုသောအမှုကိုဘုရားသခင်သည်အလိုတော်မရှိသဖြင့်၊ ဣသရေလ အမျိုးကိုဒဏ်ခတ်
၈ တော်မူသည်ဖြစ်၍- ဒါဝိဒ်က၊ အကျွန်ုပ်ပြုမိသော အမှု၌ အလွန်ပြစ်မှားပါပြီ၊ ကိုယ်တော်ကျွန်၏ အပြစ်ကိုဖြေရှင်းတော်မူပါ၊ အကျွန်ုပ်သည် အလွန်မိုက်သောအမှုကိုပြုမိပါပြီဟု၊ ဘုရားသခင်
၉ အား တောင်းပန်လေ၏။ ထာဝရ ဘုရားသည်
၁၀ ဒါဝိဒ် ၏ ပရောဖက် ဂဒ်ကို ခေါ်၍- ဒါဝိဒ် ထံသို့ သွားလော့၊ အရာသုံးပါးကို သင့်အား ငါပြ၏၊ သင်၌ ငါပြုစရာဘို့ တပါးပါးကို ရွေး လော့ဟု၊ ထာဝရဘုရား၏ အမိန့်တော်ကိုသင် ဆိုလော့ဟု
၁၁ မိန့်တော်မူသည်အတိုင်း၊- ဂဒ်သည် ဒါဝိဒ်ထံသို့ သွား၍၊ ထာဝရဘုရားမိန့်တော် မူသည်ကား၊-
၁၂ သုံးနှစ်ပတ်လုံးအစာအာဟာရခေါင်းပါးသော ဘေး၊ သုံးလပတ်လုံး၊ သင့်ကို ရန်သူလိုက်မှီ၍ ဓားဖြင့် လုပ်ကြသော ဘေး၊ သုံးရက် ပတ်လုံး ပြည်တော်၌ ကာလနာတည်း ဟူသော ထာဝရ ဘုရား၏ဓားတော်ကို၊ ထာဝရဘုရား၏ကောင်း ကင် တမန် သည် ကိုင် ၍၊ ဣသရေလ ပြည် တ ရှောက်လုံးကို ဖျက်ဆီးသော ဘေး၊ ထိုတွင်၊ တ ပါးပါးကို ရွေးလော့ဟု မိန့်တော်မူသည် ဖြစ်၍၊ အကျွန်ုပ်ကို စေလွှတ် တော် မူသော သူ အား အ ထံသို့ပြန်လျှောက် ရမည်ကို ဆင်ခြင်တော်မူ
၁၃ ပါဟုလျှောက်လေ၏။-ဒါဝိဒ်ကလည်း၊ ငါသည် ကျဉ်းမြောင်းရာသို့ ရောက်လေပြီတကား၊ ထာဝရဘုရား၏ လက်တော်သို့ ရောက် ပါစေ၊ ကရုဏာတော်ကြီးလှ၏၊ လူလက်သို့ မရောက်ပါစေနှင့်ဟုဂဒ်အားပြန်ပြော၏။
၁၄ ထာဝရဘုရားသည်လည်း၊ ဣသရေလအမျိုး၌ ကာလနာကို လွှတ် လိုက် တော် မူ၍၊ လူ ခုနှစ်
၁၅ သောင်းသေကြ၏။- ယေရုရှလင်မြို့ကို ဖျက်ဆီး စေခြင်းငှါ၊ ဘုရားသခင် သည် ကောင်းကင် တမန်ကို စေလွှတ်တော် မူသည် အတိုင်း၊ ကောင်းကင်တမန်ဖျက်ဆီးမည်ဟု၊ အားထုတ်သောအခါ၊ ထာဝရဘုရားသည် ကြည့်ရှုလျက်၊ ထိုဘေးကြောင့် နောင်တရတော်မူ၍ တန်ပြီ၊ သင့်လက်ကိုရုပ်သိမ်းလော့ဟု၊ ဖျက်ဆီးသောကောင်းကင်တမန်အား မိန့်တော်မူ၏၊ ထိုအခါ ထာဝရဘုရား၏ကောင်းကင်တမန်သည်၊ ယေဗုသိလူ အာရောန

၁၆ ၏ကောက်နယ် တလင်းအနားမှာ ရပ်နေ၏။ -ဒါ
ဝိဒ်သည်မျှော်ကြည့်၍၊ထာဝရဘုရား၏ကောင်း
ကင်တမန်သည် မြေကြီးနှင့်ကောင်းကင်အကြားမှာ ထား
ထိုမိုးလျှက်၊ မိုဃ်းကောင်းကင် နှင့်မြေကြီးကြား
မှာရပ်နေသည်ကိုမြင်လျှင်၊ ကိုယ်တိုင်မှစ၍ ဣ
သရေလ အမျိုးသား အသက်ကြီးသူ တို့ သည်
လျှော်တေအဝတ်ကို ဝတ်လျက်၊မြေပေါ်မှာပြပ်
၁၇ ဝပ်လျက် နေကြ၏။- ဒါဝိဒ်ကလည်း၊ ပြည်သား
တို့ကိုရေတွက်စေခြင်းငှါ မိန့်ရင်သောသူကား၊ အ
ကျွန်ုပ် ဖြစ်ပါသည် မဟုတ်လော။ အကျွန်ုပ် ပြစ်
မှားပါပြီ၊ အဓွန့်ရှည်စွာ ပြုမိပါပြီ။ ဤသိုးတို့
မူကား၊ အဘယ်သို့ပြုမိပါသနည်း။ ထိုအကျွန်ုပ်
ဘုရားသခင်ထာဝရဘုရား၊ ကိုယ်တော်၏ လက်တို့
ကို ခါထ်ခတ်ခြင်းငှါ၊လက်တော်ကိုသူတို့အပေါ်
သို့ရောက်စေတော် မမူ ပါနှင့်။ အကျွန်ုပ် နှင့် အ
ကျွန်ုပ်အဆွေအမျိုးအပေါ်သို့ ရောက်စေတော်မူ
ပါဟု၊ဘုရားသခင် အားတောင်းပန်လေ၏။
၁၈ ထိုအခါ ဒါဝိဒ်သည် သွား၍၊ ယေဗုသိလူ အ
ရောန၏ ကောက်နယ် တလင်း၌၊ ထာဝရ ဘုရား
အဖို့ယဇ်ပလ္လင်ကိုတည်စေခြင်းငှါ ပြောရမည်
အကြောင်း။ ထာဝရဘုရား၏ ကောင်းကင်တမန်
၁၉ သည် ဂဒ်ကို မှာထားသဖြင့်- ဂဒ်ဆင့်ဆို သော
ထာဝရဘုရား၏အမိန့်တော်အတိုင်း၊ဒါဝိဒ်သည်
၂၀ သွား၏ လေ၏။- အရောနသည် ဂျုံကို နယ် စည်
• တွင်၊ ဖျည့်ကြည့်၍ ရှင်ဘုရင်ကိုမြင်သောအခါ၊
သားလေးယောက် နှင့်တကွ ပုန်းရှောင်၍နေ၏။-
၂၁ ဒါဝိဒ်သည် အရောန ရှိရာ သို့ရောက် သောအခါ၊
အရောန ကြည့် ၍ ဒါဝိဒ် ကို မြင် လျှင်၊ ကောက်
နယ်တလင်းမှ ထွက်၍၊ ဒါဝိဒ်ရှေ့မှာဦးချပြပ်ဝပ်
၂၂ လေ၏။- ဒါဝိဒ် က လည်း၊ လူတို့တွင် ကာလနာ
ဘေးကိုငြိမ်းစေမည် အကြောင်း၊ ထာဝရဘုရား
အဖို့ယဇ်ပလ္လင်ကို ငါတည်လိုသည်ဖြစ်၍၊ ဤ
ကောက်နယ်တလင်းအရပ်ကိုအ ထိုက်ထိုက်သည်
၂၃ အတိုင်း၊ ရောင်းပါ ဟု အမိန့် ရှိသော်- အရောန
က၊ ကျွန်တော်သခင်အရှင် မင်းကြီး၊ ယူတော်မူ
ပါ။ စိတ်တော်ရှိသည်အတိုင်းပြုတော်မူပါ။ မီး ရှို့
ရာယဇ်တို့အဖို့ နွားများ၊ ထင်းအဖို့ကောက်နယ် တန်
ဆာများ၊ဘောဇဉ်ပူဇော်သက္ကာတို့အဖို့ ဂျုံစပါးများ
အလုံးစုံကို၊ ကျွန်တော်ဆက်ပါ၏ဟု ဒါဝိဒ်အား
၂၄ လျှောက်လျှင်- ဒါဝိဒ် မင်းကြီးက၊ ထိုသို့ငါမယူ
ရ။ စင်စစ် အဘိုး ထိုက် သည် အတိုင်း ပေး၍ငါ
ဝယ်မည်။ သင့်ဥစ္စာကိုထာဝရဘုရားအဖို့ ငါမ
ယိမ်း၊ ကိုယ်ငွေ မကုန်ဘဲ မီးရှို့ရာ ယဇ်ကို မပူ
၂၅ ဇော်လိုဟု၊အရောနအားဆိုသဖြင့်၊ ရွှေခြောက်
ပိဿာကို ချိန် ပေး၍၊ ထို အရပ်ကို ဝယ်ပြီးမှ-
၂၆ ထာဝရဘုရားအဖို့ ယဇ်ပလ္လင်ကိုတည်၍၊ မီး
ရှို့ရာယဇ်၊ မိဿဟာယယဇ်တို့ကို ပူဇော်လေ
၏၊ထိုသို့ထာဝရဘုရားကို ပဌနာပြုသော အခါ၊
မီးရှို့ရာယဇ်ပလ္လင်ပေါ်သို့မိုးကျသဖြင့်ထောင်း
၂၇ ကင်ထဲက ထူးတော်မူ၏။-ထာဝရဘုရားမှာထား
တော်မူသည်အတိုင်း၊ ကောင်းကင်တမန်သည်
မိမိထားကိုထားအိမ်၌သွင်းထားပြန်၏။
၂၈ ထာဝရဘုရား သည် ယေဗုသိလူ အရောန၏
ကောက်နယ် တလင်း၌၊ ထူးတော်မူသည်ကို ဒါ
ဝိဒ်ယိမြင်လျှင်၊ ထိုအရပ်၌ ယဇ်ပူဇော်ခြင်းအ
၂၉ မှုကိုပြုလေ၏။-တောကန္တာရ၌မောရှေလုပ်ခဲ့သောထာ
ဝရဘုရား၏ ထဲ တော် နှင့် မီးရှို့ရာ ယဇ် ပလ္လင်
သည်၊ ထိုကာလ၌ ဂိဗောင်မြို့၌ ရှိသော အရပ်
၃၀ လေ်မှာရှိ၏။-ဒါဝိဒ်သည်ထာဝရဘုရား၏ကောင်း
ကင် တမန် ထားကို ကြောက် သောကြောင့်၊ ထို
ယဇ် ပလ္လင်သို့ သွား၍၊ ဘုရားသခင်ကို မမေး
မလျှောက်ရ။

၂၂

၁ သို့ဖြစ်၍၊ ဒါဝိဒ် က ဤ အရပ် သည် ထာဝရ
အရှင် ဘုရားသခင်၏ အိမ်တော်ဖြစ်၏။ ဤယဇ်
ပလ္လင်သည် ဣသရေလအမျိုး၏ ယဇ်ပလ္လင်ဖြစ်
၂ ၏ဟု ဆို လျက်- ဣသရေလ ပြည်၌ ရှိသော တ
ပါးအမျိုးသားတို့ကို စုဝေးစေခြင်းငှါ မိန့်တော်
မူ၏။ ဘုရား သခင် ၏ အိမ် တော် တည် ရာ ကျောက်
ကျောက်ဆစ်ရသော ပန်းရန်သမားတို့ကိုထားပြီး
၃ အမိန့်တော် မူ၏။- တံခါး ရွက် စရာသံ့ချွန်အဖို့
နှင့်၊ သံသား ဆက် စရာအဖို့ များစွာသောသံကို
၄ ၎င်း၊ အချိန်မမှတ်နိုင်အောင် များစွာသောကြေး
ဝါ ကို ၎င်း- များစွာ သော အာရဇ် သစ်သား ကို
၎င်း၊ ပြင်ဆင်တော်မူ၏။ ဇိဒုန်မြို့သားနှင့်တုရုမြို့
သား တို့သည်၊ အာရဇ် သစ်သား အများကို ဒါ
၅ ဝိဒ်ထံတော် သို့ ဆောင် ခဲ့ကြ၏။- ဒါဝိဒ် ကလည်း
ငါ့သား ရှောလမုန်သည် အသက် ငယ်၍ နုသေး
၏။ထာဝရဘုရားအဖို့တည်ရသောအိမ်မူကား၊
အလွန် ထူး ဆန်းသော အိမ်၊ အ တိုင်း တိုင်း အ
ပြည်ပြည်၌ ဘုန်းအသရေကျော်စောသောအိမ်
ဖြစ်ရမည်။ ယခုပင် အိမ်တော်အဖို့ ငါပြင်ဆင်
မည်ဟု အကြံ ရှိလျက်၊ အနိစ္စ မရောက် မီ များ
စွာပြင်ဆင်တော်မူ၏။

၆ သားတော်ရှောလမုန်ကိုခေါ်၍၊ ဣသ
ရေလအမျိုး၏ ဘုရားသခင်ထာဝရဘုရားအဖို့၊
အိမ်တော်ကို တည်ဆောက်ရမည် အကြောင်း၊
၇ မှာထားလေသည်မှာ–သား၊ ငါ၏ဘုရားသခင်
ထာဝရဘုရား၏ နာမတော်အဖို့၊ အိမ်တော်ကို
၈ တည်ဆောက်မည်ဟု ငါအကြံရှိပြီ။–သို့ရာတွင်၊
ထာဝရ ဘုရား၏ နှုတ်ကပတ်တော်သည် ငါသို့
ရောက်သည်ကား၊ သင်သည် များစွာ စစ်တိုက်
၍၊ လူအများတို့ကိုသတ်လေပြီ။ မြေကြီးပေါ်မှာ
ရှေ့တော်မှောက်၌ များစွာ သော အသွေးကို သွန်း
လေ့ကြောင့်၊ ငါ့နာမအဖို့ အိမ်ကို မ တည် မ
၉ ဆောက်ရ။–သင်မြင်သောသားတယောက်သည်
ငြိမ်ဝပ်သောသူဖြစ်လိမ့်မည်။ သူ၏အမည်ကား
ရှောလမုန်ဖြစ်၍၊ သူပတ်ထည်၌ရန်သူမရှိ။ ငြိမ်
ဝပ်သောအခွင့်ကို ငါ၊ သူ၏လက်ထက်၌ ဣသ
ရေလအမျိုးသည်စစ်တိုက်ခြင်းမရှိ၊ ငြိမ်ဝပ်စွာ
၁၀ နေရသော အခွင့်ကို ငါ ပေးမည်။– ထိုသား
သည် ငါ့နာမအဖို့ အိမ်ကို တည် ဆောက်ရ လိမ့်
မည်။ သူသည် ငါ့သား ဖြစ်လိမ့် မည်။ ငါသည်
လည်း သူ၏အဘဖြစ်မည်။ သူထိုင်သော ဣသရေ
လနိုင်ငံ ရာဇပလ္လင်ကို အစဉ် အမြဲ ငါတည်စေ
၁၁ မည်ဟုမိန့်တော်မူပြီ။–သို့ဖြစ်၍ငါ့သား၊ ထာဝရ
ဘုရားသည်သင့်ထက်၌နေ၍၊ အကြံထမြောက်
စေတော်မူသဖြင့်၊ အမိန့်တော် ရှိသည်အတိုင်း၊
သင်သည်သင်၏ ဘုရားသခင် ထာဝရ ဘုရား၏
၁၂ အိမ်တော်ကိုတည် ဆောက်ရလိမ့်မည်။– သို့ရာ
တွင်၊ သင်သည်သင်၏ဘုရားသခင်ထာဝရဘုရား
၏တရားတော်ကိုစောင့်ရှောက်မည်အကြောင်း၊
ထာဝရဘုရားသည်ညာဏ်ပညာကိုပေး၍၊ ဣ
သရေလအမျိုးကိုမိရင်ခြင်းအမှု၌မှာထားတော်
၁၃ မူပါစေသော။– ဣသရေလအမျိုး၏အမှု၌၊ ထာဝ
ရဘုရားသည်မောရှေအား၊ မှာထားတော်မူသော
စီရင်ထုံးဖွဲ့ချက်တို့ကိုစောင့်ရှောက်ခြင်းငှါ သတိ
ပြုလျှင်၊ အကြံထမြောက်ရလိမ့်မည်။ အားယူ၍
ရဲရင့်ခြင်း ရှိလော့။ မိုးမိုက်ခြင်း၊ မိတ်ပျက်ခြင်း
၁၄ မရှိစေနှင့်။–ငါသည်ဆင်းရဲခံစဉ်တွင်၊ ထာဝရ
ဘုရား၏အိမ်တော်အဖို့၊ ရွှေအခွက်တသောင်းနှင့်
ငွေ အ ခွက် တသောင်းကို ငါ၊ အချိန် မမှတ်နိုင်
အောင် များစွာသောကြေးဝါနှင့်သံကိုငါ၊ သစ်
သားများနှင့်ကျောက်များကိုငါ ပြင်ဆင်ပြီ။ သင်
၁၅ သည်လည်း၊ ထပ်၍ ပြင်ဆင်ရမည်။–ထိုမှတပါး၊
သင်၌များစွာသောလက်သမား၊ ပန်းရန်သမား၊
ကျောက်ဆစ်သမား၊ အမျိုးမျိုးသော အတတ်၌
၁၆ လေ့ကျက်သော ဆရာ သမား ရှိကြ၏။– ရွှေငွေ
ကြေးဝါသံအတိုင်းမသိများသည်ဖြစ်၍ ထလော့။
ကြိုးစားလော့။ ထာဝရဘုရားသည် သင်နှင့်အ
တူရှိတော်မူပါစေသောဟု မှာထားတော်မူ၏။
၁၇ ဣသရေလမင်းအပေါင်းတို့သည် သားတော်
နှင့် ပိုင်းရမည် အကြောင်း၊ မှာထား လေ သည်
၁၈ မှာ၊–သင်တို့၏ဘုရားသခင်ထာဝရဘုရားသည်
သင်တို့နှင့် အတူရှိတော် မူသည် မဟုတ်လော။
အရပ်ရပ်၌ငြိမ်ဝပ်ရသော အခွင့်ကိုပေးတော်မူ
သည် မဟုတ်လော။ ပြည်သူပြည်သား တို့ကိုင
ထက်၌အပ်တော်မူသဖြင့်၊ ထာဝရဘုရား၏ရှေ့၊
ထိုဘုရားသခင်၏ လူတို့ရှေ့မှာတပြည်လုံးသည်
၁၉ နှိမ့်ချလျက်ရှိ၏။– သို့ဖြစ်၍၊ သင်တို့၏ဘုရားသ
ခင် ထာဝရဘုရားကိုရှာခြင်းငှါ၊ ကိုယ်စိတ်နှစ်
လုံးကို နှိုးဆော် တိုက်တွန်း ကြလော့။ ထာဝရ
ဘုရား၏နာမတော်အဖို့၊ တည်ရသောအိမ်တော်
ထဲသို့ ထာဝရဘုရား၏ ပဋိညာဉ် သစ်တာတော်
နှင့်ဘုရားသခင်၏သန့်ရှင်းသောတန်ဆာတို့ကို
သွင်းခြင်းငှါ ထကြလော့။ ထာဝရအရှင်ဘုရား
သခင်၏သန့်ရှင်းရာဌာနတော်ကို တည်ဆောက်
ကြလော့ဟု မှာထားတော်မူ၏။

၂၃

၁ ဒါဝိဒ်မင်းသည် အသက်ကြီး၍၊ ကာလပြည့်
စုံရာအချိန် ရောက်သောအခါ၊ သားတော်ရှော
လမုန်ကို ဣသရေလ ရှင်ဘုရင်အရာ၌ ခန့်ထား
၂ ၍– ဣသရေလ မင်း၊ ယဇ်ပုရောဟိတ်၊ လေဝိ
သားအပေါင်းတို့ကို စုဝေးစေတော်မူ၏။
၃ လေဝိသားတို့တွင် အသက် သုံးဆယ်လွန်၍၊
စခရင်းဝင်သော ယောက်ျား ပေါင်း ကား၊ သုံး
၄ သောင်း ရှစ်ထောင်တည်း။– ထိုသူ တို့တွင်၊ နှစ်
သောင်း လေးထောင် တို့သည် ထာဝရဘုရား ၏
အိမ်တော် အမှုကို ဆောင်ရွက်ရကြ၏။ ခြောက်
ထောင်တို့သည်အရာရှိ၊ တရားသူကြီးလုပ်ရကြ
၅ ၏။– လေးထောင်တို့သည် တံခါးကို စောင့်ရကြ
၏။ လေးထောင်တို့သည် ဂုဏ်တော်ကို ချီးမွမ်း
စရာတူရိယာတို့နှင့်၊ ထာဝရဘုရား၏ဂုဏ်တော်
၆ ကို ချီးမွမ်း ရကြ၏။– လေဝိသား ဂေရရှုံ၊ ကောဟ
တ်၊ မေရာရိအမျိုးအသီးအသီးတို့ကိုဒါဝိဒ်ခွဲ
၇ ထား၍၊ တမျိုးတခြားစီသင်းဖွဲ့စေ၏။– ဂေရရှုံ
အမျိုးသားကား၊ လာဒန်နှင့်ရှိမိတည်း။–လာဒန်
သားအကြီးကားယေဟေလ၊ သူ၏ညီဇေသံနှင့်

၉ ယောသထ၊ ဟေါင်းသုံးယောက် တည်း။- ရှိမိသား
ကားရှေလောမိတ်၊ ဟာဇေလ၊ ဟာရန်၊ ဟေါင်း
သုံးယောက် တည်း။ ဤ သူတို့သည် လာဒန် အ
၁၀ ဆွေအမျိုးသူကြီးဖြစ်ကြ၏။- ရှိမိသားကားယာ
ဟတ်၊ ဇိဇ၊ ယုရှ၊ ဗေရိ၊ ဟေါင်းလေးယောက်
၁၁ တည်း။-ယာဟတ်ကားအကြီးဖြစ်၏။ဇိဇကား
ဒုတိယအရာကိုရ၏။ ယုရှနှင့် ဗေရိ၌ ကားသား
များစွာမရှိ။ သို့ဖြစ်၍၊အဆွေအမျိုးအလိုက်စာ
ရင်းတခုတည်း၌ပေါင်းကြ၏။
၁၂ ကောဟတ်သားကားအာမရံ၊ ဣဇဟာ၊ဟေ
ဗြုန်၊ ဩဇေလ၊ ဟေါင်း လေး ယောက် တည်း။-
၁၃ အာမရံ သားကား အာရုန် နှင့် မောရှေတည်း။
အာရုန်နှင့်သားစည်မြေးဆက်တို့သည် ထာဝရ
ဘုရားရှေ့တော်၌၊ နံ့သာပေါင်းကို မီးရှို့ခြင်း၊ အ
မှုတော်ကို ဆောင်ရွက်ခြင်း၊ နာမတော်ကို မြွက်
၍ အစည်ကောင်းကြီးပေးခြင်း အမှုကိုပြုရမည်
အကြောင်း၊ အထွန် သန့်ရှင်း သော အရာတို့ကို
သန့် ရှင်း စေ ခြင်း ငှါ၊ အခြား သူ တို့ နှင့် ခွဲထား
၁၄ သောသူ ဖြစ်ကြ ၏။- ဘုရား သခင်လူ မောရှေ၏
သား ကိုကား၊ လေဝိ အမျိုးသား တို့၏ စာရင်း၌
၁၅ သွင်းရ၏။- မောရှေ သားကား ဂေရရှုံနှင့်ဧလျေ
၁၆ ဇာတည်း။-ဂေရရှုံ သားတို့တွင်၊ ရှေဗွေလသည်
၁၇ အကြီးဖြစ်၏။- ဧလျေဇာသားအကြီး ရေဟဘိ
တယောက်တည်းရှိ၏။ရေဟဘိ၌ကားသားအ
၁၈ ထွန်များ၏။-ဣဇဟာသားအကြီးကားရှေလော
၁၉ မိတ်၊- ဟေဗြုန်သား အကြီး ကား ယေရိ၊ ဒုတိ
ယသား အာမရိ၊ တတိယ သား ယဟာဇေထ၊
၂၀ စတုတ္ထ သား ယေကမံ၊- ဩဇေလ သား အ ကြီး
ကားမိက္ခာ၊ဒုတိယသားယေရှိတည်း။
၂၁ မေရာရိ သားကား မဟာလိနှင့် မုရှိတည်း။ မ
ဟာလိသား ကား ဧလာဇာနှင့် ကိရှတည်း။- ဧ
၂၂ လာဇာသည်သားမရှိ၊ သမီးသက်သက်ရှိ၍ သေ
၏။ သူ့သမီးတို့နှင့် သူ့ညီ ကိရှသားတို့သည် စုံဖက်
၂၃ ကြ၏။-မုရှိသားကားမဟာလိ၊ ဧဒါ၊ယေရိမုတ်၊
ပေါင်းသုံးယောက်တည်း။
၂၄ ဤရွေ့ကား အသက် နှစ်ဆယ် လွန်၍၊ ထာဝရ
ဘုရား၏အိမ်တော်အမှုကို ဆောင်ရွက် ရသော
လေဝိအမျိုးသား၊အဆွေအမျိုးအလိုက်၊ စာရင်း
၂၅ ဝင်သောအဆွေအမျိုးသူကြီးဖြစ်သတည်း။-ဣ
သရေလ အမျိုး ၏ ဘုရားသခင် ထာဝရ ဘုရား
သည်မိမိလူမျိုးအားငြိမ်ဝပ်သော အခွင့်ကိုပေး
၍ ကိုယ်တော်တိုင် ယေရုရှလင်မြို့၌ အစဉ် နေ
၂၆ တော် မူသောကြောင့်- လေဝိသားတို့သည် ဓဲ
တော်နှင့် ထဲတော် အမှုဆောင်ရွက်ရာ ထန်ဆာ
များကို၊နောက်တဖန်မထမ်းရဟုဒါဝိဒ်မိန့်တော်
၂၇ မူ၏။- နောက်ဆုံးအမိန့်တော်အတိုင်း၊အသက်
နှစ်ဆယ်လွန်သော လေဝိသားတို့ကို စာရင်းယူ
၂၈ ရ၏။-အကြောင်းမူကား၊လေဝိသားတို့သည်အာ
ရုန်သားတို့၏ ထက်ထောက်ဖြစ်သည်နှင့်အညီ၊
သန့်ရှင်းသောအရာရှိသမျှတို့ကိုစင်ကြယ်စေ၍၊
ထာဝရဘုရား၏အိမ်တော်နှင့်တန်တိုင်းများ၊အ
၂၉ ခန်းများ၌ အမှုကို ဆောင်ရွက်ရကြမည်။- ရှေ့
တော်မုန့် ကိုငင်၊ ဘော ဇည် ပူဇော်သကာ မုန့်
ညက်ကိုငင်၊တဆေးမဲ့မုန့်ပြား၊ သံပြားနှင့်ဖုတ်
သော မုန့်၊ မုန့် ဆီကျော် ကို ငင် လုပ် ၍၊ ဘုရား
သခင်၏ အိမ်တော် အမှုကိုလည်း ဆောင်ရွက်ရ
ကြမည်။တိုင်းထွာ၊ ချိန်တွယ်၊ ခြင်တွယ်ခြင်းအ
၃၀ မှု အမျိုးမျိုး ကိုလည်း ဓိရင် ရကြ မည်။- နံနက်
တိုင်း၊ညဦးတိုင်းရပ်လျှက်၊ ကျေးဇူးတော် ကြီး
လှပါ၏ဟု ဝန်ခံ၍၊ ထာဝရဘုရား၏ ဂုဏ်တော်
၃၁ ကို ထည်း ချီး မွမ်း ရကြ မည်။- ပညတ် တရား
တော်အတိုင်းဥပုသ်နေ့၊လဆန်းနေ့၊ ဓမ္မပွဲနေ့ အ
စည်မပြတ် ထာဝရ ဘုရား ရှေ့တော်၌၊ မီး ရှို့ရာ
၃၂ ယဇ်မျိုး တို့ကို ပူ ဇော် ရ ကြ မည်။- ပရိသတ်
စည်းဝေးရာ ထဲ တော် ကို ငင်၊ သန့်ရှင်းရာ ဌာန
တော်ကိုငင်၊ ထာဝရ ဘုရား အိမ် တော်၌၊ အမှု
တော်ကို ဆောင် ရွက် သော ညီ အစ်ကို အာ ရုန်
သားတို့ကိုငင်စောင့်ရကြမည်။

၂၄

၁ အာရုန် အမျိုးသား အသီးအခြားခေဝီချဲ့ရာ
မှာ၊ အာရုန် သားကား နာဒပ်၊ အဘိဟု၊ ဧလာ
၂ ဇာ၊ ဣသမာတည်း။- နာဒပ် နှင့်အဘိဟုသည်
သားမရှိ၊အဖထက်ထက်အွင်သေသောကြောင့်၊
ဧလာဇာနှင့်ဣသမာသည် ယဇ်ပုရောဟိတ်အ
၃ မှုကိုဆောင်ရ၏။- ဒါဝိဒ်သည် ဧလာဇာအမျိုး
ဇာဒုတ်နှင့် ဣသမာအမျိုး အဟိမလက်ကို၊ အ
သီးအသီးဆောင်သင့်သည်အတိုင်းခန့်ထား၏
၄ ၏။-ဣသမာအမျိုးအကြီးအကဲထက်၊ဧလာဇာ
အမျိုး အကြီးအကဲသာ၍ များသောကြောင့်၊ ဧ
လာဇာအဆွေအမျိုးအလိုက်၊ အကြီးအကဲတ
ကျိပ်ခြောက်ယောက်၊ ဣသမာအဆွေအမျိုးအ
လိုက်၊ အကြီးအကဲရှစ်ယောက်တို့ကိုအသီးအ
၅ သီးခွဲခန့်ထော၏။- စာရေးတံမြှောက်၊ အသီးအ
ခြားခွဲခန့်၍၊ သန့်ရှင်းရာ ဌာနတော်၊ ဘုရားသခင်

တ်အမှုတော်ဆောင်ရန်ကိုကျ၊ ဧလာဇာအမျိုးနှင့် ဣ
၆ သမာအမျိုးထဲကရွေးယူရ၏။- လေဝိအမျိုးဖြစ်သော
နေသနေလသား စာရေးတော်ရှေမာယသည် ရှင်
ဘုရင်နှင့်မှူးမတ်၊ ယဇ်ပုရောဟိတ်ဇာဒုတ်၊ အဗျာ
သာသားအဟိမလက်၊ ယဇ်ပုရောဟိတ်လေဝိ
သားအဆွေအမျိုးသူကြီးတို့ရှေ့မှာ၊ နာမများ
ကိုမှတ်ရ၏၊ စာရေးတံပြု၍ ဧလာဇာအမျိုးနှင့်
ဣသမာအမျိုးထဲကအစဉ်အစဉ်ရွေးကောက်
၇ ဦးထွက်သောသူဟူမူကား၊- ပဌမသူယောယာ
၈ ရိပ်၊ ဒုတိယသူယေဒါယ၊- တတိယသူဟာရိမ်၊
၉ စတုတ္ထသူစေဩရိမ်၊- ပဉ္စမသူမာလခိယ၊ ဆဋ္ဌမ
၁၀ သူမိယာမိန်၊- သတ္တမသူဟက္ကုတ်၊ အဋ္ဌမသူအ
၁၁ ဘိယ၊- နဝမသူယေရှုအ၊ ဒသမသူရှေကနိ၊-
၁၂ ဧကာဒသမသူဧလျာရှိပ်၊ ဒွါဒသမသူယာကိမ်၊-
၁၃ တကျိပ်သုံးယောက်မြောက်သောသူဟုပ္ပ၊ တ
ကျိပ်လေးယောက်မြောက်သောသူယေရှေဗပ်၊
၁၄ တကျိပ်ငါးယောက်မြောက်သောသူဗိလဂ၊ တ
ကျိပ်ခြောက်ယောက်မြောက်သောသူဣမေရ၊
၁၅ တကျိပ်ခုနစ်ယောက်မြောက်သောသူဟေဇိရ၊
တကျိပ်ရှစ်ယောက်မြောက်သောသူအပ်ဇက်၊-
၁၆ တကျိပ်ကိုးယောက်မြောက်သောသူပေထဟိ၊
၁၇ နှစ်ကျိပ်မြောက်သောသူယေဇကျေလ၊- နှစ်
ကျိပ်တယောက်မြောက်သောသူယာခိန်၊ နှစ်
ကျိပ်နှစ်ယောက်မြောက်သောသူဂါမုလ၊-
၁၈ နှစ်ကျိပ်သုံးယောက်မြောက်သောသူဒေလာ
ယ၊ နှစ်ကျိပ်လေးယောက်မြောက်သောသူမာဇိ
၁၉ ယတည်း။- ထိုသို့သူတို့အဘအာရုန်အားဣသရေ
လအမျိုး၏ဘုရားသခင်ထာဝရဘုရားမှာထား
တော်မူ၍၊ အဘအာရုန်စီရင်သည့်အတိုင်း၊ သူ
တို့သည် ထာဝရဘုရား၏ အိမ်တော်ကို ဝင်ပြီး
ဝင်၍၊ အမှုတော်ကို ဆောင်ရွက်စေခြင်းငှါ၊ ခွဲ
ခန့်ခြင်းရှိသတည်း။
၂၀ ကြွင်းသောလေဝိအမျိုးသားဟူသမျှကား၊ အာ
မရံသားဖြစ်သော ရှုဗေလ၏သားစုတွင်ယေဒေ
၂၁၊၂၂ ယ၊- ရေဟဘိသားစုတွင် ဣရှိယ၊- ဣဇ
ဟာရသားဖြစ်သော ရှေလောမိတ်၏ သားစုတွင်
၂၃ ယာဟတ်၊- ဟေဗြုန်သားစုတွင်သားအကြီး
ယေရိ၊ ဒုတိယသားအာမရိ၊ တတိယသားယ
၂၄ ဟာဇေလ၊ စတုတ္ထသားယေကမံ၊- ဩဇေလ
၂၅ သားဖြစ်သောမိက္ခာ၏သားစုတွင်ရှာမိရ၊- မိက္ခာ
ညီဣရှိယသားစုတွင်ဇာခရိတည်း။
၂၆ မေရာရိသားကား မဟလိနှင့် မုရှိဖြစ်၍-
၂၇ မေရာရိအမျိုးသားဖြစ်သောယာဇိ၏သားကား
၂၈ ဗေနော၊ ရှောဟံ၊ ဇက္ကုရ၊ ဣဗရိတည်း။- မဟ
၂၉ လိသားကား ဧလာဇာသားမရှိ။- ကိရှသားကား
၃၀ ယေရမေလတည်း။- မုရှိသားကား မဟလိ၊
ဧဒါ၊ ယေရိမုတ်တည်း။ ဤသူကား မိမိတို့အ
ဆွေအမျိုးအလိုက် လေဝိအမျိုးသားတည်း။-
၃၁ ဤသူတို့သည်ဒါဝိဒ်မင်းကြီး၊ ဇာဒုတ်၊ အဟိမ
လက်မှစသော ယဇ်ပုရောဟိတ် လေဝိသား
အဆွေအမျိုးသူကြီးတို့ရှေ့မှာ၊ မိမိတို့ညီအစ်ကို
အာရုန်အမျိုးသားတို့ တဆက်တစပ် အစဉ်
အစဉ်စာရေးတံပြုကြ၏။

၂၅

၁ ထိုမှတပါး၊ အာသပ်၊ ဟေမန်၊ ယေဒုသုန်
သားတို့နှင့်အတူပိုင်း၍၊ စောင်း၊ တယော၊ ခွက်
ကွင်းကို တီးမှုတ်လျက်၊ ကိုးကွယ်ခြင်းအမှုကို
ဆောင်ရွက်စေရာတို့၊ ဒါဝိဒ်နှင့်ပရိသတ်ဗိုလ်ခြေ
အကြီးအကဲတို့သည် ခွဲခန့်သောသူတို့စာရင်း
၂ ဟူမူကား၊- အာသပ်သားဇက္ကုရ၊ ယောသပ်၊
နေသနိ၊ အာရှရေလတည်း၊ သူတို့သည်ရှင်ဘုရင်
စီရင်သည်အတိုင်း၊ အဘအာသပ်၌ တပည့်ဖြစ်
၍၊ ကိုးကွယ်ခြင်းအမှုကို ဆောင်ရွက်ရကြ၏။-
၃ ယေဒုသုန်သားဂေဒလိ၊ ဇေရိ၊ ရှိမိ၊ ယေရှာယ၊
ဟာရှဘိ၊ မတ္တိသိ၊ ပေါင်းခြောက်ယောက်၊ သူတို့
သည် အဘယေဒုသုန်၌ တပည့်ဖြစ်၍၊ ထာဝရ
ဘုရား၏ ဂုဏ်ကျေးဇူးတော်ကို လေ်ပြ ချီးမွမ်း
ခြင်းငှါ၊ စောင်းတီးလျက်ကိုးကွယ်ခြင်းအမှုကို
၄ ဆောင်ရွက်ရကြ၏။- ဟေမန်သားဗုက္ကိ၊ မဿနိ၊
ဩဇေလ၊ ရှေဗွေလ၊ ယေရိမုတ်၊ ဟာနနိ၊ ဟာ
နနိ၊ ဧလျာသ၊ ဂိဒ္ဒါလတိ၊ ရောမန္တေဇာ၊ ယော
ရှဗေကရှ၊ မလ္လောသိ၊ ဟောသိရ၊ မဟာဇုတ်
၅ တည်းဟူသော- ထိုသူအပေါင်းတို့သည် တံပိုး
မှုတ်လျက်၊ ဘုရားသခင်၏တရားတော်ကိုဟော
ပြောသော ရှင်ဘုရင်၏ဆရာတော် ဟေမန်သား
ဖြစ်ကြ၏၊ ဘုရားသခင်သည်ဟေမန်အားသား
တကျိပ်လေးယောက်နှင့်၊ သမီးသုံးယောက်တို့
၆ ကိုပေးတော်မူ၏။- ထိုသားအပေါင်းတို့သည်
အာသပ်၊ ယေဒုသုန်၊ ဟေမန်တို့ကို ရှင်ဘုရင်စီ
ရင်သည်အတိုင်း၊ အဘဟေမန်၌တပည့်ဖြစ်၍၊
ထာဝရအရှင်ဘုရားသခင်၏ အိမ်တော်၌ ခွက်
ကွင်း၊ စောင်း၊ တယောကိုတီးလျက်၊ သီချင်းဆို
၇ ၍၊ အမှုတော်ကိုဆောင်ရွက်ရကြ၏။- ထိုသူတို့
နှင့် အကွ၊ ထာဝရဘုရား၏ သီချင်းကို သင်၍၊

ထွေကျတ်သော ညီအစ်ကို ပေါင်းကား၊ နှစ်ရာ
ရှစ်ကျိပ်ရှစ်ယောက်တည်း။
၈ ထိုသူ ထို့သည် အကြီးအငယ် ဆရာ တပည့်
ရောနှောလျက်၊ စာရေးတံပြု၍ ထမ်းရွဲရာမှာ၊-
၉ ပဌမသူကား၊ အာသပ် အပေါင်းအသင်းဝင်သူ
ယောသပ်တည်း။ဒုတိယသူဂေဒလိ၊ သူနှင့်သူ၏
သားညီပေါင်းကား၊တကျိပ်နှစ်ယောက်တည်း။-
၁၀ တတိယသူ ဇက္ကုရ၊ သူနှင့်သူ၏သားညီပေါင်း
၁၁ ကားတကျိပ်နှစ်ယောက်တည်း။- စတုတ္ထသူဣဇ
ရိ၊သူနှင့်သူ၏သား၊ညီပေါင်းကားတကျိပ်နှစ်
၁၂ ယောက်တည်း။- ပဉ္စမသူနေသနိ၊သူနှင့်သူ၏
သားညီပေါင်းကားတကျိပ်နှစ်ယောက်တည်း။-
၁၃ ဆဋ္ဌမသူ ဗုက္ကိ၊ သူနှင့်သူ၏သား ညီပေါင်းကား
၁၄ တကျိပ် နှစ်ယောက်တည်း။- သတ္တမသူယေရှ
ရေလ၊ သူနှင့် သူ၏သား ညီပေါင်းကား တကျိပ်
၁၅ နှစ်ယောက် တည်း။- အဋ္ဌမသူ ယေရှာယ၊ သူ
နှင့်သူ၏သားညီပေါင်းကားတကျိပ်နှစ်ယောက်
၁၆ တည်း။- နဝမသူ မတ္တနိ၊ သူနှင့်သူ၏သား ညီ
၁၇ ပေါင်းကားတကျိပ်နှစ်ယောက်တည်း။- ဒသမ
သူရှိမိ၊ သူနှင့်သူ၏သားညီပေါင်းကားတကျိပ်
၁၈ နှစ်ယောက် တည်း။- ဧကဒသမ သူအာရေလ၊
သူ နှင့် သူ၏ သား ညီ ပေါင်း ကား တ ကျိပ် နှစ်
၁၉ ယောက် တည်း။- ဒွါဒသမသူဟာရှဘိ၊ သူနှင့်
သူ၏ သား ညီပေါင်းကား တကျိပ် နှစ် ယောက်
၂၀ တည်း။- တကျိပ်သုံးယောက်မြောက်သောသူ
ရှုဗေလ၊ သူနှင့် သူ၏ သား ညီပေါင်းကား တ
၂၁ ကျိပ်နှစ်ယောက်တည်း။-တကျိပ်လေးယောက်
မြောက် သော သူ မတ္တိသိ၊ သူနှင့် သူ၏ သား ညီ
၂၂ ပေါင်းကားတကျိပ်နှစ်ယောက်တည်း။-တကျိပ်
ငါးယောက် မြောက်သောသူယေရမုတ်၊ သူနှင့်
သူ၏ သား ညီ ပေါင်း ကား တကျိပ်နှစ်ယောက်
၂၃ တည်း။- တကျိပ်ခြောက်ယောက်မြောက်သော
သူဟာနနိ၊ သူနှင့်သူ၏သား ညီပေါင်းကား တ
၂၄ ကျိပ်နှစ်ယောက်တည်း။-တကျိပ်ခုနစ်ယောက်
မြောက် သော သူ ယောရှဗေကရှ၊ သူ နှင့် သူ၏
သားညီပေါင်းကားတကျိပ်နှစ်ယောက်တည်း။-
၂၅ တကျိပ်ရှစ်ယောက်မြောက်သောသူဟာနနိ၊သူ
နှင့်သူ၏သားညီပေါင်းကားတကျိပ်နှစ်ယောက်
၂၆ တည်း။- တကျိပ်ကိုးယောက် မြောက်သောသူ
မလ္လောသိ၊ သူနှင့် သူ၏သား ညီပေါင်းကား တ
၂၇ ကျိပ် နှစ် ယောက် တည်း။- နှစ် ကျိပ် မြောက်
သောသူ ဧလျာသာ၊ သူနှင့်သူ၏သား ညီ ပေါင်း
၂၈ ကား တကျိပ်နှစ်ယောက်တည်း။- နှစ်ကျိပ်တ
ယောက်မြောက်သောသူဟောသိရ၊သူနှင့်သူ၏
သားညီပေါင်းကားတကျိပ်နှစ်ယောက်တည်း။-
၂၉ နှစ်ကျိပ်နှစ်ယောက်မြောက်သောသူဂိဒ္ဒါလတိ၊
သူ နှင့် သူ၏ သား ညီ ပေါင်း ကား တ ကျိပ် နှစ်
၃၀ ယောက်တည်း။- နှစ်ကျိပ်သုံးယောက်မြောက်
သော သူ မဟာဇယုတ်၊ သူ နှင့် သူ ၏ သား ညီ
၃၁ ပေါင်း ကား တကျိပ် နှစ် ယောက် တည်း။- နှစ်
ကျိပ် လေး ယောက် မြောက် သော သူ ရောမန္တ
ဧသာ၊ သူနှင့်သူ၏သားညီပေါင်းကားတကျိပ်နှစ်
ယောက်တည်း။

## ၂၆

၁ တံခါးစောင့်များ
ဟူမူကား၊ ကောရဟိ အမျိုး ရှာသပ်အနွယ်၊
၂ ကောရသား မေရှလေမိ၊- မေရှလေမိ၏ သားဦး
ဇာခရိ၊ ဒုတိယသားယေဒျေလ၊ တတိယသား
၃ ဇေဗဒိ၊စတုတ္ထသားယာသနေလ၊- ပဉ္စမသား
ဧလံ၊ဆဋ္ဌမ သားယောဟနန်၊ သတ္တမသားဧလျော
၄ ဧနဲတည်း။- ဩဗဒေဒုံ၏သားဦး ရှေမာယ၊ ဒု
တိယသားယောဇဗဒ်၊ တတိယသားယောအာ၊
၅ စတုတ္ထသားစာကာ၊ပဉ္စမသားနာသနေလ၊-ဆ
ဋ္ဌမသားအမျေလ၊ သတ္တမသား ဣသခါ၊ အဋ္ဌမ
သားပုလသဲတည်း။ ဩဗဒေဒုံကို ဘုရားသခင်
၆ ကောင်းကြီးပေးတော်မူ၏။-သားဦးရှေမာ
၇ ယ၏သား၊ဩသနိ၊ရေဖေလ၊ဩဗက်၊ဧလဇာ
ဗဒ်နှင့် ခွန်အား ကြီး သော ညီ ဧလိဟု၊ သေမခိ
ထိုသည် ခွန်အား ကြီးသောသူ၊ မိမိတို့အဆွေ
၈ အမျိုး၌ အစိုးရသောသူဖြစ်ကြ၏။- အမှုတော်
ကို ဆောင်ရွက်ခြင်းငှါ၊ တတ်စွမ်းနိုင် သော
ခွန်အား ကြီးသော ဩဗဒေဒုံ အမျိုးသား ချွေး
ယောက်ျားပေါင်းကားခြောက်ကျိပ်နှစ်ယောက်
၉ တည်း။- ခွန်အားကြီးသောမေရှလေမိသားညီ
ယောက်ျား ပေါင်း ကား တ ကျိပ် ရှစ် ယောက်
၁၀ တည်း။-မေရာရိအမျိုး၊ဟောသ၏သားတို့တွင်
မှိမရိသည် သားဦး မဟုတ် သော်လည်း၊ အစ
ခန့်ထား သော ကြောင့်၊ သား အကြီး ဖြစ်သ
၁၁ တည်း။- ဒုတိယ သားကား ဟိလကိ၊ တတိယ
သားတေဗလိ၊ စတုတ္ထသားဇာခရိ အစရှိသော
ဟောသသားညီပေါင်းကားတကျိပ်သုံးယောက်
၁၂ တည်း။- ဤ အွေကား၊ ထာဝရ ဘုရား ၏ အိမ်
တော်၌ အလှည့်လှည့် စောင့်ခြင်းငှါ ထမ်းရွဲ
သောတံခါးစောင့်အကြီးအကဲဖြစ်သတည်း။

၁၃ ထိုသူအကြီးအငယ်တို့သည်၊ မိမိတို့အဆွေအ
မျိုးအလိုက်၊ တံခါးအသီးအသီး စောင့်စေခြင်း
၁၄ ငှါစာရေးတံပြုကြ၍- အရှေ့မျက်နှာကိုရှေလမိ
ရ၏။ ရှေလမိသားပညာရှိဇာခရိသည်စာရေးတံ
၁၅ အားဖြင့်၊ မြောက်မျက် နှာကိုရ၏၊- ဩဗဒေဒုံ
သည် တောင်မျက်နှာကိုငင်၊ သူ၏သားတို့သည်
၁၆ အသုပိမ် အိမ်ကို ငင် ရ၏။- ရှုပိမ် နှင့် ဟောသ
သည်၊ အနောက် မျက် နှာနှင့် မိတ်မှန် တော်သို့
တက်ရာထမ်းဝန်း၊ ရှလ္လက်တံခါးကိုရ၍၊ တ
၁၇ ဇက်တချက်၌စောင့်ရ၏။-နေ့ရက်အစဉ်အတိုင်း
အရှေ့ မျက်နှာ၌ လေဝိ သား ခြောက်ယောက်၊
မြောက်မျက်နှာ၌လေးယောက်၊ တောင်မျက်နှာ
၌လေးယောက်၊ အသုပိမ်အတက်မှာနှစ်ယောက်၊
၁၈ တန်တိုင်းတော်ပြင်မှာနှစ်ယောက်၊- အနောက်
မျက် နှာ ထမ်း ဝမှာ လေး ယောက်၊ တန်တိုင်း
၁၉ တော်ပြင်မှာ နှစ်ယောက်စောင့်ရကြ၏။- ဤမျှ
ကား၊ တံခါး စောင့် အရာရှိသော ကောရအမျိုး
သားနှင့် မေရာရိ အမျိုးသား ဖွဲ့သော အသင်း
အသီးအသီးပေတည်း။
၂၀ လေဝိ သား တို့ တွင်၊ အဟိယ သည် ဘုရား
သခင်၏ အိမ် တော် ဘဏ္ဍာ နှင့် ပူဇော် သော
၂၁ ဘဏ္ဍာများကိုအုပ်ရ၏။- အဆွေအမျိုးသူကြီး
ဖြစ်သောဂေရရှုံအမျိုး လာဒန်သားတို့တွင် ယေ
၂၂ ဟေလိနှင့်- သူ၏သားဇေသံ၊ ယောလတို့သည်
ထည်းဘုရားသခင်၏အိမ်တော်ဘဏ္ဍာကိုအုပ်
၂၃ ရ၏။- အာမရံအမျိုး၊ ဣဇဟာအမျိုး၊ ဟေဗြုန်
၂၄ အမျိုး၊ ဩဇေလအမျိုးသားအချို့ပါကြ၏။-မော
ရှေသား ဂေရရှုံ ၏ သား ရှေဗွေလ သည် လည်း
၂၅ ဘဏ္ဍာ တော်တို့ကို အုပ်ရ၏၊- ဂေရရှုံညီ ဧလျေ
ဇာ၊ ဧလျေဇာသား ရေဟာဗိ၊ သူ၏သား ယေရှာ
ယ၊ သူ၏သားယောရံ၊ သူ၏သားဇိခရိ၊ သူ၏သား
၂၆ ရှေလောမိတ်တည်း။- ထိုရှေလောမိတ်နှင့်သူ၏
ညီတို့သည်ဒါဝိဒ်မင်းကြီး၊ အဆွေအမျိုးသူကြီး၊
လူ တထောင်အုပ်၊ တရာအုပ်၊ ဗိုလ်မင်း ပူဇော်
၂၇ သောဘဏ္ဍာရှိသမျှကိုအုပ်ရ၏။-ထိုမင်းတို့သည်
စစ်တိုက်၍ ရသော ဥစ္စာတို့ကို မသိမ်း၊ ထာဝရ
ဘုရား၏ အိမ်တော်ကို ပြုစုခြင်းငှါ ပူဇော်တတ်
၂၈ ကြ၏။-ပရောဖက် ရှမွေလ၊ ကိရှသားရှောလု၊ နေ
ရသားအာဗနာ၊ ဇေရုယာသား ယွာဘမှစ၍ အ
ခြားသောသူပူဇော်သမျှတို့ကို၊ ရှေလောမိတ်နှင့်
သူ၏ညီတို့သည်ကြည့်ရှုအုပ်စိုးရကြ၏။
၂၉ ဣဇဟာအမျိုး ခေနနိနှင့်သူ၏ သား တို့သည်
မင်းအရာရှိ၊ တရားသူကြီးဖြစ်၍၊ ဣသရေလနိုင်
၃၀ ငံတွင် ပြင် အမှုကို စောင့်ရကြ၏။- ဟေဗြုန်အ
မျိုးဖြစ်သော သူရဲကြီးဟာရှဘိနှင့်၊ သူ၏ညီ တ
ထောင်ခုနှစ်ရာတို့သည်၊ ယော်ဒန်မြစ်အနောက်
ဘက်မှာနေသော ဣသရေလလူတို့တွင်၊ မင်းအ
ရာရှိဖြစ်၍၊ ထာဝရဘုရား၏အမှုတော်နှင့်၊ ရှင်
၃၁ ဘုရင် အမှုအမျိုးမျိုးတို့ကို စောင့်ရကြ၏။- ဟေ
ဗြုန်အမျိုးသားတို့တွင်၊ အဆွေ အမျိုးအလိုက်
ယေရိယသည် အကြီးအကဲဖြစ်၏။ ဒါဝိဒ်မင်းနန်း
စံလေးဆယ်တွင်၊ ထိုအမျိုးသားတို့ကိုစာရင်းယူ
၍ ဂိလဒ်ပြည် ယာဇာမြို့၌၊ ခွန်အား ကြီးသော
၃၂ သူရဲတို့ကိုတွေ့၏။-ယေရိယ၏ပေါက်ဖော်အဦး
ဟူ သော သူရဲ ကြီး၊ အ ဆွေ အ မျိုး သူ ကြီး နှစ်
ထောင်ခုနှစ်ရာတို့သည် ဒါဝိဒ်မင်းကြီးခန့်ထား
သည်အတိုင်း၊ ရုဗင်အမျိုး၊ ဂဒ်အမျိုး၊ မနာရှေ
အမျိုးတဝက်ကိုအုပ်စိုး၍၊ ဘုရားသခင်၏အမှု
တော်နှင့်ရှင်ဘုရင်အမှုအမျိုးမျိုးတို့ကို စောင့်ရ
ကြ၏။

၂၇

၁ ရှင်ဘုရင် အမှုတော်ကို စောင့်သော ဣသရေ
လအမျိုးသားတို့သည် အဆွေအမျိုးသူကြီး၊ လူ
တထောင်အုပ်၊ တရာအုပ်၊ အရာရှိတို့နှင့်တကွ၊
တနှစ်တွင် တဆယ် နှစ်လ အစဉ်အတိုင်းတပ်
ဖွဲ့၍၊ တလစီတလစီအလှည့်လှည့်စောင့်ရသော
တပ်သားအမှုထမ်းနှစ်သောင်းလေးထောင်စီရှိ
၂ ကြ၏။- ပဌမလ တွင်၊ ပဌမ တပ်ကို အုပ် သော
ဗိုလ်မင်းကား၊ ဇာဗဒေလသား ယာရှောဗံ နှင့်
တပ်သားပေါင်းနှစ်သောင်းလေးထောင်တည်း။-
၃ ထိုမင်းသည် ဖာရက်အမျိုးသားဖြစ်၍၊ ပဌမလ
တွင်အမှုစောင့်သောတပ်မှူးအပေါင်းတို့ကိုအုပ်
၄ ရ၏။- ဒုတိယလတွင်၊ အမှုစောင့်သော တပ်ကို
အုပ်သောဗိုလ်မင်းကား၊ အဟောဟိအမျိုးသား
ဒါဒဲ နှင့် စစ်ကဲ မိကလုပ်၊ တပ်သား ပေါင်း နှစ်
၅ သောင်းလေးထောင်တည်း။-တတိယလနှင့်ဆိုင်
၁၁ တတိယ တပ်ဗိုလ်မင်းကား၊ ထိုက်ပရော
ဟိတ်ကြီးယောယဒသားဗေနာယနှင့်တပ်သား
၆ ပေါင်းနှစ်သောင်းလေးထောင်တည်း။- ထိုမင်း
သည်ဗိုလ်စုတွင်ကျော်စောသောသူ၊ ဗိုလ်ချုပ်အ
ရာရှိသောသူဖြစ်၏။ သူ၏သား အမိဇဗဒ် သည်
၇ လည်း၊ တပ်မှူး အရာကို ရ၏။- စတုတ္ထလတွင်
စတုတ္ထဗိုလ်မင်းကား၊ ယွာဘညီအာသဟေလ၊
စစ်ကဲကားအာသဟေလသားဇေဗဒိ၊ တပ်သား

၈ ပေါင်း နှစ်သောင်း လေးထောင် တည်း။- ပဉ္စမ
လတွင် ပဉ္စမ ဗိုလ်မင်း ကား ဣဇဟာ အမျိုး ရှံ
ဟုတ်၊ တပ်သားပေါင်းနှစ်သောင်းလေးထောင်
၉ တည်း။- ဆဋ္ဌမ လတွင်၊ ဆဋ္ဌမ ဗိုလ်မင်း ကား
တေကော မြို့ သား၊ ဣကေရှ၏ သားဣရ၊ တပ်
သား ပေါင်း နှစ်သောင်း လေးထောင် တည်း။-
၁၀ သတ္တမလတွင်၊ သတ္တမ ဗိုလ်မင်းကားဧဖရိမ်အ
မျိုးပေလောနီအနွယ်ဖြစ်သောဟေလက်၊တပ်
၁၁ သားပေါင်းနှစ်သောင်းလေးထောင်တည်း။-အ
ဋ္ဌမလတွင်၊ အဋ္ဌမ ဗိုလ်မင်း ကား ဇာရအမျိုး၊
ဟုရှသိ အနွယ် ဖြစ်သော သိဗေကဲ၊ တပ်သား
၁၂ ပေါင်းနှစ်သောင်းလေးထောင်တည်း။-နဝမလ
တွင် နဝမ ဗိုလ်မင်းကား ဗင်္ယာမိန်အမျိုး၊ အနေ
သောသိအနွယ် ဖြစ်သော အဗျေဇာ၊ တပ်သား
၁၃ ပေါင်း နှစ်သောင်း လေးထောင်တည်း။- ဒသမ
လတွင်၊ ဒသမ ဗိုလ် မင်း ကား ဇာရ အမျိုး၊ နေ
တောဖာသိအနွယ်ဖြစ်သောမဟာရဲ၊တပ်သား
၁၄ ပေါင်း နှစ်သောင်းလေးထောင်တည်း။- ဧကဒ
သမလတွင်၊ ဧကဒသမဗိုလ်မင်းကားဧဖရိမ်အ
မျိုး၊ပိရသောနီအနွယ်ဖြစ်သောဗေနာယ၊တပ်
သား ပေါင်း နှစ်သောင်း လေးထောင် တည်း။-
၁၅ ဒွါဒသမလတွင်၊ ဒွါဒသမ ဗိုလ်မင်းကား ဩသ
နေလ အမျိုး၊ နေတောဖာသိ အနွယ် ဖြစ်သော
ဟေလ ဒဲ၊ တပ် သား ပေါင်း နှစ် သောင်း လေး
ထောင်တည်း။
၁၆ ဣသ ရေလ အမျိုး အသီး အသီး တို့ကို အုပ်
သောမင်း ဟူမူကား၊ ရုဗင် အမျိုးတွင် ဇိခရိ၏
သား ဧလျေဇာ၊ ရှိမောင်အမျိုးတွင် မာခါ၏ သား
၁၇ ရှေဖတိ၊- လေဝိ အမျိုး တွင် ကေမွေလ၏ သား
၁၈ ဟာရှဘိ၊ အာရုန် အမျိုး တွင် ဇာဒုတ်၊- ယုဒအ
မျိုးတွင်ဒါဝိဒ်အစ်ကိုဧလိဟု၊ဣသခါအမျိုးတွင်
၁၉ မိက္ခေလ၏ သား ဩမရိ၊- ဇာဗုလုန် အမျိုးတွင်
ဩဗဒိ၏သားဣရှမာယ၊နဿလိအမျိုးတွင်အာ
၂၀ ဇရေလ၏သားယေရိမုတ်၊- ဧဖရိမ် အမျိုးတွင်
အာဇဇိ၏သားဟောရှေ၊ မနာရှေ အမျိုးတဝက်
၂၁ တွင်ပေဒါယ၏သားယောလ၊-ဂိလဒ်ပြည်၌မနာ
ရှေ အမျိုး တဝက် တွင် ဇာခရိ၏ သား၊ ဣဒ္ဒေါ၊
ဗင်္ယာမိန် အမျိုး တွင် အာဗနာ၏ သား ယာသေ
၂၂ လ၊- ဒန်အမျိုးတွင်ယေရောဟံ၏သားအာဇရေ
လ၊ ဤသူတို့ကား၊ ဣသရေလအမျိုးတို့ကိုအုပ်သော
မင်းပေတည်း။
၂၃ ထာဝရဘုရားသည် ဣသရေလ အမျိုး သား
တို့ကိုမိုဃ်းကောင်းကင်ကြယ်နှင့်အမျှတိုးပွား
များ ပြားစေတော်မူမည်ဟု ဂတိတော် ရှိသော
ကြောင့်၊ ဒါဝိဒ်သည်အသက်နှစ်ဆယ်မရှိသော
၂၄ သူတို့ကို စာရင်း မယူဘဲနေ၏။- ဇေရုယာ သား
ယွာဘသည်စာရင်းယူစပြု၍၊ ထိုအပြစ်ကြောင့်
အမျက်တော်သည် ဣသရေလအမျိုး အပေါ်သို့
သက်ရောက်သောအခါ၊ထိုစာရင်းမဆက်ရေတွက်
၍ရသော လူပေါင်းကို ဒါဝိဒ်မင်းကြီး၏ မှတ်စာ
၌မသွင်းမမှတ်။
၂၅ အဒေလ သား အာဇမာဝက် သည် ဘဏ္ဍာ
တော်မိုးဖြစ်၏။ဩဇိသားယောနသန်သည်လယ်
ပြင်၊မြို့ရွာ၊ ရဲတိုက်၌ရှိသောဘဏ္ဍာတိုက်တို့ကို
၂၆ အုပ်ရ၏။- ခေလုပ်သား ဧဇရိသည် လယ်ထ
၂၇ လုပ်သော သူတို့ကို အုပ်ရ၏။- ရာမမြို့သား ရှိမိ
သည်စပျစ်ဥယျာဉ်တော်ကိုငင်၊ ရှိဖမိမြို့သားဇ
ဗဒိသည် စပျစ်သီးနှင့်စပျစ်ရည်တိုက်တို့ကိုငင်
၂၈ အုပ်ရ၏။- ဂေဒရိလူဗာလဟာနန်သည် မြိုင်တို့
၌ ရှိ သော သံလွင်ပင်နှင့် သဖန်း ပင် တို့ကို ငင်၊
၂၉ ယောရှသည်ဆီတိုက်တို့ကိုငင်အုပ်ရ၏။-ရှာရုန်
အရပ်သား၊ရှိတရဲသည်ရှာရုန်အရပ်၌ကျက်စား
သော နွားစုကိုငင်၊ အာဒလဲ သား ရှာဖတ်သည်
မြိုင်တို့၌ ကျက်စားသောနွားစုကိုငင်အုပ်ရ၏။-
၃၀ ဣရှမေလအမျိုးသား ဩဗိလသည်ကုလားအုတ်
တို့ကိုငင်၊ မေရောနသိလူယေဒေယသည် မြည်း
၃၁ တို့ကိုငင်- ဟာဂရအမျိုးသား ယာဇိဇ်သည် သိုး
တို့ကိုငင်အုပ်ရ၏။ဤသူတို့သည်ဒါဝိဒ်မင်းကြီး၏
ဥစ္စာဘဏ္ဍာတော်ကိုအုပ်ရသောသူပေတည်း။-
၃၂ ဒါဝိဒ်၏အထွေးတော်ယောနသန်သည်တိုင်ပင်
ဖူးမတ် ပညာရှိ ကျမ်းတတ် ဖြစ်၏။ ဟခမောနိ
သားယေဟေလသည်ရှင်ဘုရင်၏ သားတော်တို့
၃၃ အပေါင်းအဖော်ဖြစ်၏၊-အဟိသောဖေလသည်
ရှင်ဘုရင်၏တိုင်ပင်ဖူးမတ်၊ အာခိမြို့သားဟုရှဲ
၃၄ သည် ရှင်ဘုရင်၏ အဆွေခင်ပွန်း ဖြစ်၏။- အဟိ
သောဖေလ နောက်မှာ၊ အဗျာသာနှင့် ဗေနာယ
သား ယောယဒ သည် နေရာကျ၏။ ယွာဘသည်
တပ်တော်ဗိုလ်ချုပ်မင်းဖြစ်၏။

၂၈

၁ ထိုနောက် ဒါဝိဒ် မင်းသည် ဣသရေလ မင်း များ
တည်းဟူသော၊ အမျိုး အသီး အသီး ကို အုပ်
သောမင်း၊ အလှည့်လှည့် အမှု တော်ကို ဆောင်
သောတပ်မှူးဗိုလ်မင်း၊ လူတထောင်အုပ်၊ တရာ
အုပ်၊ ရှင်ဘုရင်၏ ဘဏ္ဍာမိုး၊ သား တော်၏

အထွာခြောက်ချောင်းရှိ၍ လက်ခြောက်ချောင်းစီ
ဖြစ်သော လက်နှစ်ဆယ်လေးချောင်း ရှိ၏၊
၇ သူသည် ဣသရေလအမျိုးကို ကဲ့ရဲ့သောကြောင့်၊
ဒါဝိဒ်၏အစ်ကို ရှိမာ၏သား ယောနသန်သည် သူ့ကို
၈ သတ်လေ၏။ ဤသူတို့သည် ဂါသမြို့၌ ရာဖာ၏
သားမြေးဖြစ်၍၊ ဒါဝိဒ်လက်ဖြင့်၎င်း၊ သူ၏ကျွန်တို့
လက်ဖြင့်၎င်း ကျဆုံးကြ၏။

အဓွာခိုး၊ ရွှန်အောမျှိသောသူရဲ အကြီးအကဲအ
ရာ၌အပေါင်းတို့ကိုလေရှရှုထင်ရှိမှာ စုဝေးစေ
၂ တော်မူ၏။— ထိုအခါ ဖါရိမ်မင်းကြီးသည်ရပ်၍၊
ညီအစ်ကို၊ ငါလူတို့၊ နားထောင်ကြလော့။ ထာ
ဝရဘုရား၏ ပဋိညာဉ် သစ်တာတော် ငြိမ်ဝပ်ရာ
အိမ်တည်းဟူသောဘုရားသခင်၏ ခြေတော်တင်
ရာခုံကို တည်ထုပ်မည်ဟု ငါ အကြံရှိ၍၊ တည်
၃ ထုပ်ခြင်းငှါ တွင်ဆင် နှင့်ပြီ။— သို့ရာတွင်၊ ဘုရား
သခင်က သင်သည် စစ်တိုက်သောသူ၊ လူအသက်
ကို သတ်သောသူဖြစ်၍၊ ငါ့နာမအဘို့ အိမ်တော်
၄ ကို မတည်မဆောက်ရဟု မိန့်တော်မူ၏။— ဣသ
ရေလအမျိုး၏ဘုရားသခင်ထာဝရဘုရားသည်
ငါ့အဆွေအမျိုးများထဲက ငါ့ကိုရွေးကောက်၍၊ ဣ
သရေလ ရှင်ဘုရင်အရာ၌ အမြဲမြိုးမြောက်တော်
မူ၏။ ယုဒအမျိုးကိုရွေးကောက်၍၊ အခြားသော
အမျိုးတို့ကိုအုပ်စိုးရသောအခွင့်ကိုပေးတော်မူ
၏။ ယုဒအမျိုးတွင်၊ ငါ့အဘ၏အိမ်ထောင်ကို၎င်း၊ ငါ့
အဘ၏သားတို့တွင် ငါ့ကို၎င်းနှစ်သက်၍၊ ဣသရေ
လနိုင်ငံ ထုံးကို စိုးစံ ရသော အခွင့်ကို ပေးတော်
၅ မူ၏။— ထာဝရဘုရားသည် ငါ့အားများစွာသော
သားတို့ကို ပေးတော်မူသည် ဖြစ်၍၊ သားအ
ပေါင်းတို့တွင်၊ သားရှောလမုန်ကို ရွေးကောက်
၍၊ ဣသရေလအမျိုးကိုအုပ်စိုးလျက်၊ ထာဝရ
ဘုရား၏ နိုင်ငံတော်ရာဇပလ္လင်ပေါ်မှာ ထိုင်စေ
၆ ခြင်းငှါ ခန့်ထားတော်မူပြီ။— ငါ့အားလည်း၊ သင့်
သားရှောလမုန်သည် ငါ့အိမ်နှင့် ငါ့တန်တိုင်းတို့
ကိုတည် ရမည်။ ငါသည် ထိုသူကို သားအရာ၌
ခန့်ထားခြင်းငှါ ရွေး ကောက် ပြီ။ ငါသည် သူ၏
၇ အဘ ဖြစ်မည်။— သူသည် ငါ့ပညတ်ချက် ပညတ်
တရားတို့ကို ယနေ့ကဲ့သို့ အမြဲကျင့်လျှင်၊ သူ၏နိုင်
၈ ငံကိုငါတည်စေမည်ဟု မိန့်တော်မူ၏။— သို့ဖြစ်၍၊
သင်တို့သည် ဤ ကောင်းသော ပြည်ကို ပိုင်၍၊
သင်တို့၏သားမြေးအစဉ်အဆက်အမွေခံရာအို
ချန်ထားလိုသောငှါ၊ ထာဝရဘုရား၏ပရိသတ်
တည်း၊ ဟူ သော၊ ဣသ ရေလ အ မျိုး သား အ
ပေါင်းတို့ရှေ့၌၎င်း၊ ငါတို့ဘုရားသခင်အထံတော်
၌၎င်း၊ သင် တို့ ဘုရား သခင် ထာဝရ ဘုရား ၏
ပညတ်တော် ရှိသမျှတို့ကိုရှာ၍ စောင့် ရှောက်
၉ ကြလော့။— သားရှောလမုန်၊ သင့်အဘ၏ဘုရား
သခင်ကိုသိလော့။ စုံလင်သောနှစ်လုံး၊ ကြည်ညို
သော စိတ် သဘောနှင့် ဝတ် ပြုလော့။ ထာဝရ
ဘုရားသည် ခပ် သိမ်းသော စိတ်နှစ်လုံး တို့ကို
စစ်၍၊ အကြံအစည်ရှိသမျှတို့ကို သိတော်မူ
၏။ ကိုယ်တော်ကိုရှာလျှင်၊ အတွေ့ခံတော်မူမည်။
ကိုယ်တော်ကိုစွန့်လျှင်၊ သင့်ကိုအစဉ်အမြဲစွန့်
၁၀ တော်မူမည်။— သတိပြုလော့။ သန့်ရှင်းရာဌာန
အဘို့၊ အိမ်တော်ကို တည် ဆောက် စေခြင်းငှါ၊
သင့်ကိုထာဝရဘုရားရွေးကောက်တော်မူသော
ကြောင့်၊ အားယူ၍ တည်ဆောက်လော့ဟု မှာ
ထားတော်မူ၏။
၁၁ ထိုအခါ အိမ်တော်ဦး၊ အဆောင်ကြီး၊ ဘဏ္ဍာ
တိုက်၊ အထက်ခန်း၊ အတွင်းခန်း၊ သစ်တာတော်
၁၂ အဖုံးထားရာအခန်း၏ပုံကို၎င်း- ထာဝရဘုရား
၏ အိမ်တော် တန်တိုင်းများ၊ ပတ်လည်၌ ကာ
သော အ ခန်း များ၊ ဘုရား သခင် ၏ အိမ် တော်
ဘဏ္ဍာတိုက်များ၊ ပူဇော်သောအရာသိုထားရာ
တိုက်များ၊ တို့၏ ပုံကို၎င်း၊ မိမိ ကြံစည် သမျှအ
တိုင်း၊ ဒါဝိဒ်သည် သား တော် ရှောလမုန် အား
၁၃ အပ်တော်မူ၏။— ယဇ်ပုရောဟိတ်၊ လေဝိသား
သင်းခွဲခြင်း၊ ထာဝရဘုရား၏အိမ်တော်၌အမှု
တော်ကိုဆောင်ရွက်ခြင်း၊ ဆောင်ရွက် စရာတန်
၁၄ ဆာရှိသမျှ တို့ကိုလည်း စီရင်တော်မူ၏။— အမှု
တော်အမျိုးမျိုးကို ဆောင်ရွက်စရာ ရွှေတန်ဆာ
ရှိသမျှတို့အဘို့ ရွှေကို၎င်း၊ ငွေတန်ဆာ ရှိသမျှတို့
၁၅ အဘို့ ငွေကို၎င်း ချိန်၍ အပ်တော်မူ၏။— ရွှေမီးခုံ
နှင့်ရွှေမီးခွက် အသီးအသီးအဘို့၊ ငွေမီးခုံနှင့်ငွေ
မီးခွက်အသီးအသီးသုံးစရာရှိသည်အတိုင်း၊ ရွှေ
၁၆ ငွေကိုချိန်၍ အပ်တော်မူ၏။— ရှေ့တော်မုန့်တင်
စရာရွှေစားပွဲနှင့် ငွေစားပွဲအသီးအသီး၊ အဘို့ရွှေ
၁၇ ငွေကို ချိန် ၍ အပ် တော်မူ၏။— အမဲသားချိတ်၊
အင်တုံ၊ ဖလား များ အဘို့ ရွှေစင် ကို၎င်း၊ ရွှေလင်
ပန်းနှင့်ငွေလင်ပန်း အသီးအသီးအဘို့ ရွှေငွေကို
၁၈ ၎င်း၊ ချိန်၍အပ်တော်မူ၏။— နံ့သာပေါင်းမီးရှို့ရာ
ယဇ် ပလ္လင်အဘို့ ရွှေစင်ကို၎င်း၊ အတောင် ဖြန့်ကို
ဖြန့်၍၊ ထာဝရဘုရား၏ ပဋိညာဉ်သစ်တာတော်
ကိုလွှမ်းမိုးသော ခေရုဗိမ် ရထား တော်ပုံ အဘို့
၁၉ ရွှေကို၎င်း၊ ချိန်၍အပ်တော်မူ၏။— ထိုပုံများ၊ ရှိသ
မျှတို့ကို ရေးထားသည် အတိုင်း၊ နားလည် နိုင်
သောညာဏ်ပညာကို ထာဝရဘုရားသည်ပေး
တော်မူ၏။
၂၀ သားတော်ရှောလမုန်အားလည်း၊ ထင်ထည်
အားယူ၍ ရဲရင့်သော စိတ်နှင့် လုပ်ဆောင်လော့။
မစိုးရိမ်နှင့်။ စိတ်မပျက်နှင့်။ ငါ၏ဘုရားသခင်၊
ထာဝရအရှင်ဘုရားသခင်သည်သင်နှင့်အတူရှိ

တော်မူထိန့်မည်။ ထာဝရဘုရား၏အိမ်တော်မှု
ကိုဆောင်ရွက် ရာဖို့ လုပ်ဆောင် ၍၊ ထတ်စမ
သတ်မှီ ထိုင်စေခေါင်း၊ ထင့်ကို စွန့်တော်မမူ။ ဖြစ်
၂၀ ထား တော်မမူ။– ထင်။ ရွှဲ သော ထင်း ပရော
ထိတ်၊လေဝိသားတို့သည်လည်းဘုရားသခင်၏
အိမ်တော်မှုကိုဆောင်ရွက်ရာဖို့ရှိကြ၏။ ထိုမှာ
သောဆရာသမား အမျိုးမျိုးတို့သည်လည်း၊အ
ရာရာတို့ကိုလုပ်ဆောင် စေအံ့ရှိကြ၏။ မင်းများ
နှင့် ပြည်သူ ပြည်သား များ အပေါင်းတို့ သည်
လည်း၊သင့်သတ်၌ရှိကြသည်ဟု မိန့်တော်မူ၏။

၂၉

၁ ထိုနောက် ဒါဝိဒ် မင်း ကြီး က၊ ဘုရား သခင် ရွေး
ကောက်တော် မူသော သား၊ ရှောလမုန် သည်
အသက် ငယ်၍ နုသေး၏၊ အမှုကားကြီး၏၊
ထည့် ဆောက်ရသော မိတ်မှန်သည် လူအဖို့ မ
၂ ဟုတ်၊ထာဝရအရှင်ဘုရားသခင်အဖို့ဖြစ်၏။–ငါ
၏ဘုရားသခင် အိမ်တော်အဖို့ ရွှေတန်ဆာလုပ်
စရာဖို့ရွှေကိုငင်၊ ငွေတန်ဆာလုပ်စရာဖို့ငွေကို
ငင်၊ကြေးဝါတန်ဆာလုပ်စရာဖို့ကြေးဝါကိုငင်၊
သံတန်ဆာလုပ်စရာဖို့သံကိုငင်၊ သစ်သားတန်
ဆာလုပ်စရာဖို့ သစ်သားကိုငင်၊ ရှပ်ကျောက်
နှင့်အရောင်မျိုးထွတ်၍ မီစရာ ဖို့ကောင်းသော
ကျောက်၊ အထိုးထိုက်သောကျောက်မျိုး၊ များ
စွာသောကျောက်မြတ်ဖို့ကိုငင်၊ တတ်နိုင်သမျှအ
၃ ထိုင်း၊ငါပွှင်ဆင်ပြီ။–ငါ၏ဘုရားသခင်အိမ်တော်
၄ ၌ငါမိတ် နှစ်သုံး ရွှဲထမ်း သော့ ကြောင့်၊ ထိုသန့်
ရှင်းသောအိမ်အဖို့ ပွှင်ဆင်သောဥစ္စာမှတပါး၊
ကိုယ် ဥစ္စာထဲက ဩဖိရရွှေအခွက် သုံး သောင်း
နှင့်ကျောက်ထရဲဖို့ကိုမွမ်းမံ ရာဖို့ငွေ ခုနစ်
သောင်းကို၊ ငါ၏ဘုရားသခင်အိမ်တော်အဖို့ငါ
၅ ပေး၏၊ ရွှေထည်ရွှေတန်ဆာအဖို့၊ငွေထည်ငွေတန်
ဆာအဖို့နှင့် ဆရာသမား လုပ်သမျှအဖို့ ဖြစ်၏။
ထိုဖြစ်၍၊ ထနေ့ထာဝရဘုရားအား ကိုယ်ဥစ္စာ
ကို အလေယ်လှူပူဇော်ချင်သနည်းဟု၊ ပရိသတ်
၆ အပေါင်း ထိုအား မေးတော်မူလျှင်– အဆွေအ
မျိုးတို့၏ကြီးအကဲများ၊ ဣသရေလအမျိုးအ
သီးသီး ထိုကို အုပ်စိုး သော မင်းများ၊ လူ တ
ထောင်အုပ်၊ တရာ အုပ်များ၊ ရှင် ဘုရင်၏ အမှု
တော် ကို စီရင် သော သူများ တို့ သည် ကြည်ညို
၇ သော မိတ်ရှိ၍– ဘုရားသခင်၏ အိမ်တော် မှုကို
ဆောင်ရွက်ရာဖို့၊ ရွှေအခွက်ငါးသောင်းနှင့်ရွှေ
အင်္ဂါလေးသောင်း၊ငွေအခွက်တသိန်း၊ကြေးဝါအ
ခွက်တသိန်းရှစ်သောင်း၊သံအ ခွက်တ သန်းကို
၈ လှူကြ၏။– ကျောက် မြတ် ရှိ သော သူ တို့ သည်
လည်း၊ဂေရရှုံ့အမျိုးသားယေဟေလထံမြင့်
ထာဝရဘုရား၏ အိမ်တော် ထဌာနာထဲ ထို့သွင်း
၉ ကြ ၏။– လူများ ထိုသည် စိတ် ထင် သော နှစ် ထိုး
ကြည်ညိုသောမိတ်သဘောရှိ၍၊ ထာဝရဘုရား
အား ပူဇော် သော့ကြောင့် ဝမ်းမြောက် ကြ၏။
ဒါဝိဒ် မင်းကြီး သည် လည်း အလွန် တရာ ဝမ်း
မြောက်တော်မူ၏။
၁၀ ထိုအခါဒါဝိဒ်က၊အကျွန်ုပ်တို့အဘဣသရေလ
၏ဘုရားသခင်ထာဝရဘုရား၊ကိုယ်တော်သည်
ကမ္ဘာ အဆက် ဆက် မင်္ဂလာ ရှိ တော် မူ စေ သ
၁၁ တည်း။– အိုထာဝရ ဘုရား၊ ကိုယ်တော် သည်
ဘုန်း တန်ခိုး အာနု တော်၊ အောင် မြင် ခြင်းအ
ခွင့်၊ အာ ထာ တော် နှင့် ပြည့် စုံ တော် မူ ၏။
ကောင်းကင် မြေကြီး ၌ ရှိရှိသမျှ ကို ပိုင်တော် မူ
၏။ အိုထာဝရဘုရား၊ ကိုယ်တော်သည်အစိုးရ
တော်မူ၏။ ခပ်သိမ်းသော သူတို့၏ အထွဋ်၊ မြင့်
၁၂ မြတ်တော်မူ၏။– ဂုဏ်အသရေနှင့်စည်းစိမ်ဥစ္စာ
သည် ကျေးဇူးတော် ကြောင့် သာ ဖြစ်၏။ ကိုယ်
တော်သည်ခပ်သိမ်းသောသူတို့ကိုအုပ်စိုးတော်
မူ၏။ ခွန်အားအစွမ်းသတ္တိကိုပေးပိုင်တော်မူ၏။
ခပ်သိမ်းသောသူတို့အားကြီးမြတ်သောအခွင့်
၁၃ နှင့်မိုင်ခံ့သောအခွင့်ကိုပေးပိုင်တော်မူ၏။–သို့ဖြစ်
၍၊ အကျွန်ုပ်တို့၏ ဘုရားသခင်၊ ကျေးဇူးတော်
ကြီး လှ ပါသည်ဟု အကျွန်ုပ် တို့သည် ဝန်ခံ၍၊
ဘုန်းကြီးသော နာမတော်ကို ချီးမွမ်း ကြပါ၏။–
၁၄ သို့ရာတွင်၊ ကြည်ညိုသော မိတ် နှင့် ဤမျှလောက်
ပူဇော် နိုင်စေခြင်း၊ အကျွန်ုပ် နှင့် အကျွန်ုပ်၏ လူ
တို့သည်အဘယ်သို့သောသူဖြစ်ပါသနည်း။ခပ်
သိမ်းသော အရာတို့သည် တန်ခိုးတော် ကြောင့်
ဖြစ်ပါ၏။ အကျွန်ုပ်တို့သည်ကိုယ်တော်၏ဥစ္စာထဲ
၁၅ ကသာ ကိုယ်တော်အားပူဇော်ပါ၏။– အကျွန်ုပ်
တို့သည်ဘိုးဘေးများကဲ့သို့၊ရှေ့တော်၌ဧည့်သည်
အာဂန္တုဖြစ်ပါ၏၊ မြေကြီး ပေါ်မှာ နေ ရသော
ကာလသည် အရိပ်ကဲ့သို့ ဖြစ်ပါ၏။ မြဲမြံရာ မရှိ
၁၆ ပါ။– အကျွန်ုပ်တို့၏ဘုရားသခင်ထာဝရဘုရား၊
ကိုယ်တော်၏ နာမအဖို့၊ ကိုယ်တော်၏ အိမ် ကို
တည် ဆောက် ခြင်း အလို့ငှါ၊ အကျွန်ုပ် တို့ ပွှင်
ဆင်သော ဤထဌာနာ ရှိသမျှသည် တန်ခိုးတော်
ကြောင့်ဖြစ်ပါ၏။ အထုံးနုံထိုကိုကိုယ်တော်ပိုင်
၁၇ တော်မူ၏။– အကျွန်ုပ်တို့၏ ဘုရားသခင်၊ ကိုယ်

ဆောင်သည့်စိတ် နှလုံးကိုစစ်၍ ဖြောင့်မတ်ခြင်း
အရာကို နှစ်သက်တော်မူသည်ကို အကျွန်ုပ်သိ
ပါ၏။ အကျွန်ုပ် မူကား၊ ဖြောင့်မတ်ခြင်း၊ ထ
ဘော၊ ကြည်ညိုသောစိတ်ရှိသည်နှင့်၊ ဤအလှူ
ရှိသမျှကို ပူဇော်ပါ၏။ စည်းဝေးလျက် ရှိသော
ကိုယ်တော်၏ လူတို့သည်၊ ကြည်ညိုသော စိတ်
နှင့်ပူဇော်ကြသည်ကိုမြင်၍ ဝမ်းမြောက်ပါ၏။-
၁၈ အကျွန်ုပ်တို့ ဘိုးဘေးအာဗြဟံ၊ ဣဇာက်၊ ဣသ
ရေလ တို့၏ ဘုရား သခင် ထာဝရ ဘုရား ကိုယ်
တော်၏လူတို့သည်ဤအမှုအရာများကို၊ အစဉ်
အောင်းမေ့ နှလုံးသွင်းသော စိတ် အလောမှိုစည်အ
ကြောင်း၊ သူတို့စိတ် နှလုံး သည် ကိုယ် တော်
ထံ၌ တည်ကြည်မည်အကြောင်း၊ အစဉ်မပြတ်
၁၉ နားတော်မူပါ။- အကျွန်ုပ်၏ သား ရှောလမုန်
သည်လည်း၊ ကိုယ်ပညတ်တော် ၏ သက်သေ ခံချက်၊
ထုံးဖွဲ့ချက် စီရင်ထုံးတရားတို့ကိုစောင့်ရှောက်၍၊
အကျွန်ုပ် ပြင်ဆင်သောအမှုကို အကုန် အစဉ်ပြီး
စီးစေလျက်၊ မိတ်ဖုန်တော်ကိုတည်ဆောက် နိုင်
စည် အကြောင်း၊ စုံလင် သော စိတ် နှလုံး ကို
ပေးသနားတော်မူပါ။ ဝရီထတ်အပေါင်းတို့
ရှေ့မှာထာဝရဘုရားကိုကောင်းကြီးပေးလျက်
၂၀ မြတ်ဆို၏- ဝရီထတ်အပေါင်းတို့အားလည်း၊
သင်တို့၏ ဘုရားသခင်ထာဝရဘုရားကိုကောင်း
ကြီး ပေးကြလော့ဟု မိန့်တော် မူသည် အတိုင်း၊
ဝရီထတ်၏ အပေါင်း တို့သည်၊ ဘိုး ဘေး တို့၏
ဘုရားသခင်ထာဝရဘုရား ကို ကောင်း ကြီးပေး
လျက်ဦးချ၍၊ ထာဝရဘုရားကိုင့်၊ ရှင်ဘုရင်ကို
ရှင်မှိုးကြ၏။
၂၁ နက်ဖြန်နေ့၌သည်း၊ ထာဝရပူဇော်ခြင်းအမှုကို
ပြု၍၊ နွားလားသောင်၊ သိုးထီးတထောင်၊ သိုးသငယ်
တထောင်တို့ကိုမီးရှို့ ပူဇော်ခြင်း၊ သွန်းလောင်း ရာပူ
ဇော်သကာသို့နှင့်တကွ၊ ဣသရေလအမျိုးသားမျိုး
တို့အဖို့တွက်၊ ထာဝရဘုရားအား၊ ဗျာ၊ မြှင့်သော
၂၂ ယဇ်ကိုပူဇော်ကြ၏- ထိုနေ့ရှင်တွင်၊ ထာဝရ
ဘုရားရှေ့တော်၌ဘေးလောက်၍ ပျော်မွေ့မြဲခြင်းကို
ပြုလျက်၊ ဒါဝိဒ်၏ သားတော် ရှောလမုန်ကို နှင်
ဘုရင်အရာ၌ ဖုတိယအကြိမ် ချီးမြှောက်၍၊ ထာ
ဝရဘုရား အောက်မှာ မင်းဖြစ် စေခြင်းငှါ နှင်း၊
ဇာဒုတ်ကို ယဇ်ပုရောဟိတ် ဖြစ်စေခြင်းငှါ နှင်
၂၃ ဆီထိတ်ပေးကြ၏။- ထိုအခါ ရှောလမုန်သည်
ခမည်းတော် ဒါဝိဒ်ကိုယ်စား ရှင်ဘုရင်အရာကို
ခံ၍၊ ထာဝရဘုရား၏ ရာဇပလ္လင်တော်ပေါ်မှာ
ထိုင်လျက် ဘုန်း ကြီး တော် မူ၏၊ ဣသရေလ အ
မျိုးသားအပေါင်း တို့သည် စကားတော်ကို နား
၂၄ ထောင်ကြ၏။- မှူးတော် မတ်တော်၊ အရာကြီး
သော သူအပေါင်းတို့နှင့်၊ ဒါဝိဒ်မင်းကြီး၏ သား
တော် အပေါင်း တို့သည်၊ ရှောလမုန် မင်းကြီး၏
၂၅ ဆုစ်မိုးခြင်းကိုဝန်ခံကြ၏။- ထာဝရဘုရားသည်
ဣသရေလအမျိုးသားအပေါင်းတို့ရှေ့မှာ၊ ရှော
လမုန်ကို အလွန် ချီးမြှောက်၍၊ ဣသရေလ ရှင်
ဘုရင် တယောက်မျှ မခံ ဖူးသော ဘုန်း အာနု
ဘော်တော်ကိုပေးသနားတော်မူ၏။
၂၆ ယေရှဲ၏သားဒါဝိဒ်သည် ဣသရေလနိုင်ငံလုံး
၂၇ ကိုအစိုးရသောမင်းဖြစ်တော်မူ၏-ဟေဗြုန်မြို
၌ခုနှစ်နှစ်၊ယေရုရှလင်မြို့၌ သုံးဆယ်သုံးနှစ်မင်း
ပြု၍၊ ဣသရေလနိုင်ငံကို စိုးစံသောနှစ်ပေါင်း
၂၈ ကား၊ အနှစ်လေးဆယ်တည်း- ဒါဝိဒ်သည်အ
သက်ကြီးရင့်၍နေ့ရက်ကာလအပြည့်စုံခြင်း၊ဘုန်း
စည်းစိမ်ကြွယ်ဝခြင်းရှိလျက်အနိစ္စ ရောက်၍၊
သားတော်ရှောလမုန်သည်ခမည်းတော်အရာ၌
၂၉ နန်းထိုင်လေ၏။- ဒါဝိဒ်မင်းကြီး ပြုမူသော အမှု
၃၀ အရာ အစ အဆုံး၊ မှိုသမျှ၊ အစိုးရခြင်း၊ တန်ခိုး
ကြီးခြင်းနှင့်တကွ၊ ကိုယ်တော်မှစ၍ ဣသရေလ
ပြည်၊ အခြားတပါးသော တိုင်းပြည်များတို့၌၊
ဖြစ်လေသမျှသော အမှုအရာ အလုံးစုံတို့သည်၊
ပရောဖက်ရှင်ရွှေသ၏ကျမ်းစာ၊ပရောဖက်နာသန်
၏ကျမ်းစာ၊ ပရောဖက် ဂဒ်၏ ကျမ်း စာတို့၌ ရေး
ထားလျက်ရှိ၏။

ရာဇဝင်ချုပ်ပဌမစောင်ပြီး၏။

# ရာဇဝင်ချုပ် ဒုတိယစောင်။

## SECOND BOOK OF THE CHRONICLES.

၁

၁ ဒါဝိဒ်၏သားတော်ရှောလမုန်သည်၊မိမိဘုရား
သခင်ထာဝရဘုရားမစတော်မူခြင်း၊ အထွန်းမြီး
မြှောက်တော်မူခြင်း ကျေးဇူးကြောင့်၊ မိမိအာ
၂ ဏာတော် တည်ကြည် မြဲမြံသောအခါ- လူတ
ထောင်အုပ်၊တရာအုပ်၊ တရားသူကြီး၊ဣသရေ
လမင်း အပေါင်းတို့နှင့်၊ အဆွေအမျိုးသူကြီးအ
စရှိသောဣသရေလအမျိုးသားအပေါင်းတို့ကို
၃ ခေါ်၍- တော၌ ထာဝရဘုရား၏ ကျွန်မောရှေ
လုပ်ခဲ့သောဘုရားသခင်၏ ပရိသတ်စည်းဝေး
ရာထဲတော် သည်၊ ဂိဗောင် မြို့တွင် မြင့်သောအ
ရပ်၌ ရှိသည်ဖြစ်၍၊ ထိုအရပ်သို့ ပရိသတ်အ
၄ ပေါင်း တို့ နှင့် အတူ သွားတော် မူ၏- ဘုရား
သခင်၏ သစ်တာတော်ကို ကား၊ ဒါဝိဒ် ပြင်ဆင်
သောအရပ်၊ ယေရုရှလင် မြို့၌ ဆောက်နှင့်သော
ထဲသို့၊ ကိရယတ်ယာရိမ် မြို့မှ ဆောင်ခဲ့သော်
၅ ထည်း- ဟုရ သား ဖြစ် သော ဥရိ၏ သား ဗေဇ
လေလလုပ်ခဲ့သောကြေးဝါ ယဇ်ပလ္လင်ကို၊ထာ
ဝရဘုရား၏ထဲတော်ရှေ့မှာ ထားသောကြောင့်၊
ရှောလမုန်နှင့်ပရိသတ်တို့သည် ထိုယဇ်ပလ္လင်
၆ သို့ သွားကြ၏- ထိုသို့ပရိသတ် စည်းဝေးရာ
ထဲတော်ရှေ့၊ ထာဝရဘုရား ရှေ့တော်၌ ရှိသော
ကြေးဝါ ယဇ်ပလ္လင်သို့ ရှောလမုန် ရောက်၍၊
ထိုပလ္လင်ပေါ်မှာ မီးရှို့ရာ ယဇ် တထောင်ကို ပူ
ဇော်လေ၏။

၇ ထို ညဉ့်တွင် ဘုရား သခင် သည် ရှောလမုန်
အား ထင်ရှား လျှက်၊ ငါပေးရမည်ဆုကိုတောင်း
၈ လော့ဟု မိန့် တော် မူ၏- ရှောလမုန် က လည်း၊
ကိုယ်တော်သည် အကျွန်ုပ်အဘ ဒါဝိဒ်၌ များစွာ
သော ကျေးဇူး ကို ပြု တော် မူ ပြီ၊ အဘ အရာ၌
၉ လည်း အကျွန်ုပ်ကိုနန်းထိုင်စေတော်မူပြီ- ယခု
မှာ ထိုထာဝရအရှင်ဘုရားသခင်၊မြေမှုန့်များသ
ကဲ့သို့အရေအတွက် အားဖြင့်များပြားသော လူ
မျိုး၏ ရှင်ဘုရင်အရာ၌၊ အကျွန်ုပ်ကို မြှောက်
တော်မူသောကြောင့်၊ အဘဒါဝိဒ်၌ထားသောဂ
၁၀ တိတော်ကိုတည်စေတော်မူပါ၊- အကျွန်ုပ်သည်
ဤလူတို့ရှေ့မှာ ထွက်ဝင် နိုင် မည် အကြောင်း၊
ဉာဏ်ပညာကို ပေးသနား တော်မူပါ၊ ဤမျှ
လောက် များစွာသော ကိုယ်တော်၏ လူတို့ကို၊
အဘယ်သူသည် ကိုယ်အလိုအလျောက် တရား
စီရင်နိုင်ပါမည်နည်းဟု တောင်း လျှောက်၏-
၁၁ ဘုရားသခင်ကလည်း၊ သင်သည်ထိုသို့အောင်း
မေ့၍စည်းစိမ်ဥစ္စာဂုဏ်အသရေကိုမတောင်း၊
ရန်သူ ထို့၏ အသက် ကို လည်း မတောင်း၊ အာ
ရှည်သော အသက် ကို လည်း မတောင်း၊ ငါခန့်
ထား၍ သင်အစိုးရသောငါ၏လူမျိုးကိုတရားစီ
ရင်ခြင်းငှါ၊တတ်နိုင်သောဉာဏ်ပညာကိုသာ
၁၂ ကိုယ်အဖို့တောင်းသောကြောင့်- ဉာဏ်ပညာ
ကိုငါပေး၏၊ထိုမှတပါး၊သင့်ရှေ့မှာဖြစ်ဘူးသော
ရှင်ဘုရင်နှင့်၊ သင့်နောက်၌ ဖြစ်လတံ့သော ရှင်
ဘုရင် တ ယောက် မျှ မရှိ နိုင်မည် အကြောင်း၊
စည်းစိမ်ဥစ္စာ၊ ဂုဏ် အသရေကိုလည်း၊ ငါပေး
၁၃ မည် ဟု မိန့် တော် မူ၏- ထို အခါ ရှောလမုန်
သည် ဂိဗောင်မြို့တွင်၊ မြင့်သောအရပ်၌ ရှိသော
ပရိသတ် စည်းဝေးရာထဲတော်ရှေ့မှသည် ယေ
ရုရှလင် မြို့သို့ ပြန် သွား၍၊ ဣသရေလ ပြည်ကို
အုပ်စိုးလျှက်နေတော်မူ၏။

၁၄ ထိုနောက်၊ရှောလမုန်သည်ရထားများ၊မြင်း
စီးသူရဲများကိုလည်းဖူး၍၊ရထားတထောင်နှင့်
လေးရာ၊မြင်းစီးသူရဲတသောင်းနှစ်ထောင်ရှိ၏၊
ရထား ထိန်း မြို့တို့၌၎င်း၊ ယေရုရှလင်မြို့ အထံ
၁၅ တော်၌၎င်းထား၏၊-ရှင်ဘုရင်သည်ယေရုရှလင်
မြို့၌ရွှေငွေကို ကျောက်ခဲကဲ့သို့၎င်း၊ အာရဇ်ပင်
တို့ကိုလွင်ပြင်၌ပေါက်သောသဖန်းပင်ကဲ့သို့၎င်း
၁၆ များပြားစေ၏- ရှောလမုန် ထံသို့ မြင်းများကို
အဲဂုတ္တုပြည်၊ ကောမြို့မှဆောင်ခဲ့ရ၏၊ရှင်ဘုရင်
ကုန်သည်တို့သည်အသိုးပေးလျှက်၊ကောမြို့၌ခံ
၁၇ ယူရကြ၏- အဲဂုတ္တုပြည်မှရထား တစီးကိုငွေ

ခြောက် မိထော နှင့်ရင်၊ မြင်း တစီး ကို တပိုသော ငါးဆယ် နှင့် ရင်ရောင်း၊ မြို့မှ၏ ၊ ထိုသို့ပဲ တြိမင်း ကြီး နှင့်ရှုမိမင်းကြီးအပေါင်းတို့သည်၊ အဲဂုတ္တု ရထား နှင့်မြင်းတို့ကိုရတတ်ကြ၏။

၂

၁ ရှောလမုန်သည် ထာဝရဘုရား၏ နာမတော် အမှိုအိမ်ကိုငှင်၊ နန်းတော်ကိုငှင် တည်ဆောက်
၂ ခြင်းငှါ အကြံ ရှိ၍၊- ထမ်း ရွက်သောသူ ခုနှစ် သောင်း၊တောင်မိုးပေါ်မှာ သစ်ခုတ်သောသူရှစ် သောင်း၊ ကြည့်ရှု စီရင် ရသောသူ သုံး ထောင်
၃ ခြောက်ရာတို့ကိုခွဲခန့်ပြီးမှ-တုရုမင်းကြီးဟိရံထံ သို့စေလွှတ်၍၊မင်းကြီးသည်ငါ့အဘဒါဝိဒ်၏နန်း တော် ဆောက်စရာဘို့အာရဇ် သစ်သားကိုပေး လိုက် သည်နည်းတူ၊ ငါ၌ တဖန်ကျေးဇူး ပြုပါ
၄ လော့။- ဒူ သရေလ အမျိုးသည် အစဉ် ကျင့်ရ သောတရားအတိုင်း၊ဘုရားရှေ့မှာနံ့သာပေါင်း ကိုမီး ရှို့ခြင်းငှါရင်၊ ရှေ့တော်မုန့်ကို အစဉ်တင် ခြင်းငှါရင်၊ ညဦး၊ နံနက်၊ ဥပုသ်နေ့၊ လဆန်းနေ့၊ ငါတို့ဘုရားသခင် ထာဝရဘုရား၏ ဓမ္မပွဲနေ့တို့ ၌၊ မီးရှို့ရာယဇ်ကိုပူဇော်ခြင်းငှါရင်၊ ငါ၏ဘုရား သခင် ထာဝရ ဘုရား ၏ နာမ တော်အဘို့၊ အိမ်
၅ တော်ကိုတည်ဆောက်၍ပူဇော်ရမည်။-ငါတည် ဆောက်ရသော အိမ်တော်သည်ကြီးရမည်။ ငါ တို့ဘုရားသခင်သည် ဘုရားတကာတို့ထက်ကြီး
၆ မြတ်တော်မူ၏။- ကောင်းကင်နှင့် ကောင်းကင် တကာတို့၏အထွဋ်အမြင့်ဆုံးသောကောင်းကင် သည်၊ ကိုယ်တော်ကို မဆံ့ မခံနိုင်သည် ဖြစ်၍၊ ကျွန်း ဝပ်တော် မူရာအိမ်ကို အဘယ်သူ တည် ဆောက်နိုင်မည်နည်း။ ရှေ့တော်၌ယဇ်ကိုမီးရှို့ ရာ အိမ်မှ တပါး၊ အခြား သော အိမ် တော် ကို တစုံဆောက်ခြင်းငှါ၊ ငါသည်အဘယ် သို့သော
၇ သူဖြစ်သနည်း။- ယခုမှာရွှေ၊ငွေ၊ ကြေးဝါ၊ သံ၊ မောင်းသောအထည်၊ နီသောအထည်၊ပြာသော အထည်ကို လုပ်တတ်သောအတတ်၊ ငါ့အဘ ဒါ ဝိဒ်တွင်ဆင်၍ယေရုရှလင်မြို့၊ယုဒပြည်၌ငါ့ထံမှာ ရှိသောဆရာသမားတို့နှင့်ပိုင်း၍ ထု လုပ် တတ် သော အတတ်နှင့် ပြည့် စုံသော သူ တယောက်
၈ ကို ငါ ထံသို့ စေ လွှတ် ပါ။- အာရဇ် သစ်သား၊ ထင်းရှူး သစ်သား၊ အာလဂု သစ် သား များကို လေဗနုန် တောင်မှာ ခုတ်၍ ပေး လိုက်ပါ။ မင်း ကြီး၏ ကျွန်တို့သည် လေဗနုန် တောင် ပေါ်မှာ
၉ ထစ်ခုတ် တတ်ဆည်ကို ငါသိ၏။- ထစ်သားအ များကိုပြင်ဆင်ခြင်းငှါ၊ ကျွန်တို့သည်မင်းကြီး ကျွန်တို့ နှင့်ပိုင်း၍ လုပ်ကိုင်ကြလိမ့်မည်။ငါတည် ဆောက်ရသော အိမ်တော်သည် အလွန်ကြီး၍၊
၁၀ အံ့သြဖွယ်သော အိမ်ဖြစ်ရမည်။- သစ်ခုတ် သော မင်းကြီး ကျွန်တို့အား ကျုံ့ဆန် ကောရနှစ် သောင်း၊ မုယော ဆန် နှစ် သောင်း၊ စပျစ်ရည် ဗတ်နှစ်သောင်း၊ ဆီနှစ်သောင်းကို ငါပေးမည် ဟုမှာလိုက်လေ၏။
၁၁ တုရု မင်းကြီး ဟိရံ သည် စာ ရေး၍၊ ရှောလ မုန် ထံ သို့ ပြန် ပေး လိုက် သည် ကား၊ ထာဝရ ဘုရား သည် မိမိ လူ မျိုး ကို ချစ် တော် မူ သော ကြောင့်၊ ကိုယ်တော်ကိုသူတို့ ရှင်ဘုရင်အရာ၌
၁၂ ချီးမြှောက်တော်မူပြီ။- ကောင်းကင်နှင့်မြေကြီး ကို ဖန် ဆင်း တော် မူသော ဣသရေလ အမျိုး၏ ဘုရားသခင်ထာဝရဘုရားသည် မိတ်မှန်တော် ကိုငှင်၊ နန်း တော်ကိုငှင် တည် ဆောက်ခြင်းငှါ၊ တတ်စွမ်းနိုင်အောင် ဉာဏ်ကောင်း၍ ပညာ သတိနှင့် ပြည့်စုံသော သားကို၊ ဒါဝိဒ် မင်းကြီး အားပေးတော်မူသည်ဖြစ်၍၊ထာဝရဘုရားသည်
၁၃ မင်္ဂလာရှိတော်မူစေသတည်း။-ယခုမှာဉာဏ် ကောင်း၍ လိမ္မာ သောသူ၊ ဟိရံအဘိကို ငါစေ
၁၄ လွှတ်ပါ၏။-သူ့အမိကားဒန်အမျိုးသူ၊အဘကား တုရုအမျိုးသားဖြစ်၏။သူသည်ရွှေ၊ငွေ၊ကြေးဝါ၊ သံ၊ ကျောက်၊ သစ်သား၊မောင်းသောအထည်၊ ပြာသောအထည်၊ နီသောအထည်၊ပိတ်ချောကို လုပ်တတ်သောအတတ်၊အမျိုးမျိုးထုလုပ်ထတ် သောအတတ်နှင့်ပြည့်စုံ၍၊ကိုယ်တော်၏ဆရာ သမား၊ ခမည်းတော်အရှင်ဒါဝိဒ်၏ဆရာသမား တို့နှင့် ပိုင်းလျက်၊ လိုသမျှကိုဉာဏ်ရှာ၍ ထုစ်
၁၅ တတ်သောသူဖြစ်၏။- သို့ဖြစ်၍၊ ကိုယ်တော်အ မိန့် ရှိသည်အတိုင်း၊ကျုံ့ဆန်၊ မုယောဆန်၊စပျစ် ရည်၊ ဆီကို ကိုယ်တော် ကျွန် တို့ အား ပေး ပါ
၁၆ တော့။-ငါတို့သည်ကိုယ်တော်လိုချင်သမျှသော သစ်သားကို၊လေဗနုန် တောင် ပေါ်မှာ ခုတ်ပြီး လျှင်၊ ဖောင်လုပ်၍ပင်လယ်ထမ်းဖြင့်၊ယုပ္ပေမြို့ သို့ ဆောင်ခဲ့ပါမည်။ ကိုယ်တော်သည်ယေရုရှ လင်မြို့သို့သယ်ယူရမည်ဟုပြန်ပြော၏။
၁၇ ခမည်းတော်ဒါဝိဒ်သည်ဣသရေလနိုင်ငံ၌နေ သောတပါး အမျိုးသား အပေါင်းတို့ကို စာရင်း ယူပြီးသည် နောက်၊ ထပ်ရှောလမုန်သည်စာ ရင်း ယူပြန်၍၊ တသိန်း ငါး သောင်း သုံးထောင်
၁၈ ခြောက်ရာ ထိုကိုတွေ့၏။- ထမ်းသောသူ ခုနှစ်

ရမည် အကြောင်း၊ ငါသည် ထပ်ထပ် နှစ်ကြိမ်တိုင်
အောင် ထင်အားအကျိန်ပေးရမည်နည်းဟုမေး
၁၆ တော်-မိက္ခာက၊ ဣသရေလအမျိုးသားအပေါင်း
တို့သည်၊ သိုးထိန်းမရှိသောသိုးကဲ့သို့တောင်များ
အပေါ်မှာအရပ်ရပ်ကွဲပြားလျက်ရှိကြသည်ကို
ငါမြင်ပြီ၊ထာဝရဘုရားကလည်း၊ဤသူအပေါင်း
တို့သည် အရှင်မရှိသောကြောင့်၊ အသီးအသီး
တို့ထိ နေရာသို့ ပြန်ကြပါလေစေဟု မိန့်တော် မူ
ကြောင်းကိုလျှောက်ဆို၏-ဣသရေလရှင်ဘုရင်
ကလည်း၊သူသည်ငါ၌မင်္ဂလာစကားကိုမဟော၊
အမင်္ဂလာ စကား ကိုသာ ဟော တတ်သ ည် ဟု၊
မင်းကြီးအား ငါမပြောသလောဟုယောရှဖတ်
၁၈ အားဆို၏-မိက္ခာကလည်း၊ သို့ဖြစ်၍ ထာဝရ
ဘုရား၏အမိန့်တော်ကို နား ထောင်ပါ။ ထာဝရ
ဘုရား သည် ပလ္လင် တော် ပေါ်မှာ ထိုင် တော်မူ
သည်ကိုငှင်၊ ကောင်းကင် ဗိုလ်ခြေ အပေါင်း တို့
သည် လက်ျာတော်ဘက်၊ လက်ဝဲတော် ဘက်၌
၁၉ ရပ်နေကြသည်ကိုငှင်ငါမြင်ပြီ။- ထာဝရဘုရား
ကလည်း၊ အာဟပ်သည် ဂိလဒ်ပြည်ရာမုတ်မြို့
သို့ စစ် ချီ ၍ ဆုံး စေ ခြင်း ငှါ၊ အဘယ် သူ သွေး
ဆောင်မည်နည်းဟုမေးတော်မူလျှင်၊ အချို့အရာ
တော်တို့သည် တယောက်တနည်း၊ပြန်လျှောက်
၂၀ ကြ၏-တဖန်ဝိညာဉ်တပါးသည်လာ၍ ထာဝရ
ဘုရား ရှေ့ တော် ၌ ရပ် လျက်၊ အကျွန်ုပ် သွေး
ဆောင်ပါမည်ဟုလျှောက်လျှင်-ထာဝရဘုရား
က၊ အဘယ် သို့ သွေး ဆောင် မည် နည်း ဟု မေး
၂၂ တော် မူသော်၊ အကျွန်ုပ် သွား၍ ထိုမင်း ကြီး၏ပ
ရောဖက် အပေါင်း တို့အထဲမှာ၊ မုသာစကားကို
ပြောတတ်သော ဝိညာဉ် ဖြစ်ပါမည်ဟု ပြန်
လျှောက်သော်၊သင်သည်သွေးဆောင်၍နိုင်လိမ့်
မည်။ထိုသို့သွား၍ပြုလော့ဟုမိန့်တော်မူ၏။ သို့
ဖြစ်၍ထာဝရဘုရားသည်၊မုသာစကားကိုပြော
တတ်သောဝိညာဉ်ကိုမင်းကြီး၏ပရောဖက်
အပေါင်းတို့၌ သွင်းတော် မူပြီ။ မင်းကြီး၏ အမှု
မှာအမင်္ဂလာစကားကို ပြောတော်မူပြီဟု လျှော
၂၃ က်၏။- ထိုအခါ ခေနာနာ၏သား ဇေဒကိ သည်
ချဉ်းကပ်၍ မိက္ခာ၏ပါးကို ပုတ်လျက်၊ ထာဝရ
ဘုရား၏ ဝိညာဉ်တော်သည် သင်နှင့် နှုတ်ဆက်
ခြင်းငှါ၊ အဘယ် ထံမှ၊ ငါ့ထံမှ ထွက်တော်မူသ
၂၄ နည်းဟု မေး လျှင်- မိက္ခာက၊ ထိုသူ သည် ပုန်း
ရှောင်၍နေခြင်းငှါ၊ အတွင်းခန်းထဲသို့ ဝင်သော
၂၅ နေ့၌သင်မြင်ရလိမ့်မည်ဟု ဆို၏။- ဣသရေလရှင်
ဘုရင်က၊ မိက္ခာကို မြို့ဝန် အာမုန် ထံ၊ အား
၂၆ တော်ယောရှထံသို့ ယူသွား၍- ဤသူကို ထောင်
ထဲမှာချထားကြ။ ငါသည်ငြိမ်ဝပ်စွာပြန်၍
မလာမှီတိုင်အောင်၊ ထင်းရဲစွာ စားသောက် စေ
ဟု၊ အမိန့်တော်ရှိကြောင်းကို ထင့် ဆို လော့ဟု
၂၇ မိန့်၏။-မိက္ခာကလည်း၊မင်းကြီးသည်ငြိမ်ဝပ်
စွာ ပြန်လာရလျှင်၊ ထာဝရ ဘုရားသည် ငါ့အား
ဖြင့် မိန့်တော် မမူ။ ထိုလူများအပေါင်းတို့၊ နား
ထောင်ကြလော့ဟု ဆို၏။
၂၈ ထိုသို့ဣသရေလရှင်ဘုရင်နှင့် ယုဒရှင်ဘုရင်
ယောရှဖတ်တို့သည်၊ ဂိလဒ်ပြည် ရာမုတ်မြို့သို့
၂၉ စစ်ချီကြ၏။- ဣသရေလရှင်ဘုရင်က၊ ငါသည်
ခြားနားသော အဆောင်ကိုဆောင်၍ စစ်ပွဲထဲသို့
ဝင်မည်။ မင်းကြီးမူကား၊ မင်းအဝတ်တန်ဆာ
ကိုဝတ်ဆင်ပါလော့ဟု ယောရှဖတ်အား ဆိုပြီး
မှ၊ ဣသရေလရှင်ဘုရင်သည် ခြားနားသောအ
၃၀ ဆောင်ကိုဆောင်လျက် စစ်ပွဲထဲသို့ဝင်၏- ရှုရိ
ရှင်ဘုရင်က၊ ဣသရေလရှင်ဘုရင်မှတပါး၊ အ
ခြားသော လူကြီး လူငယ်ကို မတိုက် နှင့်ဟု၊ ရ
ထားစီး သူရဲ တပ်ဗိုလ်မင်း တို့ကို မှာထား နှင့်
၃၁ သောကြောင့်- ရထားစီးသူရဲတပ်ဗိုလ်မင်းတို့
သည်ယောရှဖတ်ကိုမြင်သောအခါ၊ထိုသူသည်
ဣသရေလရှင်ဘုရင်ဖြစ်လိမ့်မည်ဟု ဆိုလျက်၊
ထိုကို တိုက်ထိုး သော ငှါ ဝိုင်းထားကြ၍၊ ယောရှ
ဖတ်သည်၊ ကျွေးကြော်သော်၏၊ ထာဝရ ဘုရား
သည်၊မစ၍သူတို့ကိုဖယ်သွားစေခြင်းငှါ၊ ဘုရား
၃၂ သခင် သွေးဆောင်တော် မူ၏။- ဣသရေလရှင်
ဘုရင် မဟုတ် ကြောင်းကို၊ ရထားစီး သူရဲတပ်
ဗိုလ်မင်း တို့သည် ရိပ်မိသောအခါ မလိုက်ဘဲ
၃၃ အခြား သို့ ရှောင် သွား ကြ၏။- လူ တယောက်
သည် မချိန်မဆလေး နှင့်ပစ်၍၊ ဣသရေလရှင်
ဘုရင်ကို၊ သံချပ်အင်္ကျီ အဆက်ကြားမှာ မှန်လေ
သော်၊ ငါ့ကို စစ်ပွဲ ထဲက လှည့်၍ ထုတ် ဆောင်
လော့။ ငါနာသည်ဟု ဒိုင်ရထားတော်ထိန်းကို
၃၄ ဆို၏။-ထိုနေ့၌တိုး၍တိုက်ကြ၏။ဣသရေလရှင်
ဘုရင်သည်ညဦးယံတိုင်အောင်၊ ရှုရိလူတဘက်
ထဲချက်၌ရထားတော်ထဲမှာလှုံကို မှီ၍ ထိုင်နေ၏။
နေဝင်မှိန်နှိမ်းသောအခါအသက်တော်ကုန်၏။

၁၉

၁ ယုဒရှင်ဘုရင်ယောရှဖတ်သည် ယေရုရှလင်
၂ မြို့၊နန်းတော်သို့ငြိမ်ဝပ်စွာပြန်လာ၏။- ဟာနန်
၏သား ပရောဖက်ယေဟုသည်၊ ယောရှဖတ်မင်း

ကြီးကို စရီးဦးကြိ ပြု ဆဲ့သောင့်ါ ထွက်သွား၍၊
မင်းကြီးသည် မတရားသောသူတို့ကိုမစထင့်ထ
သော၊ ထာဝရဘုရားကို ရန်ဘေးသောသူတို့ကို ချစ်
ထင့်သလော၊ ထိုမှုပြုသောအမှုကြောင့်၊ ထာဝရ
ဘုရား၏ အမျက်တော်သည် မင်းကြီး အပေါ်သို့
၃ သက်ရောက်လေပြီ။- ထိုသော်လည်း၊ မင်းကြီး
သည် တပြည် လုံးတွင်၊ အာရှရ ပင်တို့ကို ပယ်
ရှား၍၊ ဘုရား သခင်ကို ရှာ ခြင်းငှါ သဘော ရှိ
သောကြောင့်၊ ကျင့်သောအကျင့် ကောင်းပါပြီ
၄ ဟုဆို၏။- ထိုနောက်၊ ယောရှဖတ်သည်ယေရု ရှ
လင်မြို့၌နေ၏၊ တဖန်ဗေရရှေဘမြို့မှစ၍၊ ဧဖရိမ်
တောင်တိုင်အောင် လှည့်လည်သဖြင့်၊ ပြည်သား
တို့ကိုဘိုးဘေးတို့၏ ဘုရားသခင် ထာဝရဘုရား
၅ ထံတော်သို့ပြန်စေတော်မူ၏။-ယုဒနိုင်ငံတွင်၊ ခိုင်
ခံ့သောမြို့ ရှိသမျှ အသီးအသီး၊ တို့၌၊ တရား သူ
၆ ကြီး တို့ကို ခန့်ထား၍-သင်တို့ပြုသော အမှုကို
သတိပြုကြလော့။ လူ၏အမှုကိုစောင့်၍တရားစီ
ရင်သည် မဟုတ်။ သင်တို့စီရင်ရာတွင်၊ ရှိတော်
မူသော ထာဝရ ဘုရား၏ အမှုတော်ကိုစောင့်၍
၇ စီရင် ရကြ၏။- သို့ဖြစ်၍၊ ထာဝရ ဘုရားကို
ကြောက်ရွံ့သောစိတ်ရှိ၍၊ သတိပြုကြလော့။ ငါ
တို့ ဘုရား သခင် သည် မ တရား သော အမှု ကို
ထင်ခံခြင်း၊ လူမျက်နှာကိုထောက်ခြင်း၊ တံမိုး
စားခြင်းအ ခွင့်ရှိတော်မမူဟုမှာထားတော်မူ၏။
၈ ယေရုရှလင်မြို့၌လည်း၊ ထာဝရဘုရား၏တရား
မှုတို့ကိုငှင်၊ ယေရုရှလင် မြို့သား အချင်းချင်း
တရား တွေ့မှု တို့ကို ငှင် စီရင် စေ ခြင်း ငှါ လေဝိ
သား၊ ယဇ်ပုရောဟိတ်၊ ဣသရေလ အဆွေအ
၉ မျိုးသူကြီးအချို့ တို့ကိုခန့်ထား၍-သင်တို့သည်
စုံလင်သော စိတ်နှစ်လုံးနှင့်၊ ထာဝရ ဘုရားကို
ကြောက် ရွံ့လျက်၊ သစ္စာ စောင့် လျက် စီရင် ကြ
၁၀ လော့။- အမြို့မြို့၌ နေသော အမျိုးသားချင်းတို့
တွင်၊ လူ အသက် သတ်ခြင်း အမှု၊ စီရင်ထုံးဖွဲ့
တော်မူချက် ပညတ်တရားကို လွန်ကျူးခြင်းအ
မှုမည်သည်ကား၊ သင်တို့ ရှေ့သို့ ရောက် လျှင်၊
သင်တို့နှင့်အမျိုးသားချင်းတို့အပေါ်သို့၊ အမျက်
တော် သက်ရောက် စေခြင်းငှါ၊ သူတို့သည်ထာ
ဝရဘုရားကိုမပြစ်မှားရမည်အကြောင်း၊ သတိ
ပေးကြလော့၊ သို့ပြုလျှင်၊ ကိုယ်တိုင်အပြစ်လွတ်
၁၁ ကြလိမ့်မည်။- ထာဝရဘုရား၏ အမှု အရာရာ
တွင်၊ ယဇ်ပုရောဟိတ် မင်း အာမရိ သည် သင်
တို့ကို အုပ်ချုပ်ရ၏။ ရှင်ဘုရင်၏ အမှု အရာရာ
တွင်၊ ယုဒအမျိုးမှာမင်းဖြစ်သောဣရှမေလသား
ဇေဗဒိသည်အုပ်ချုပ်ရ၏။ လေဝိသားတို့သည်
သင်၏၊ အမှုထမ်းလုလင်လုပ်ရကြ၏။ ရဲရင့်စွာ
စီရင် ကြ လော့။ ထာဝရဘုရား သည် ကောင်း
သောလူတို့ ထက်မှာ နေတော်မူမည်ဟု မှာထား
တော်မူ၏။

၂၀

၁ ထိုနောက်၌၊ မောဘအမျိုးသားနှင့်အမ္မုန်အ
မျိုးသား တို့သည် ဧဒုံအမျိုး သား အချို့နှင့် အ
တူ၊ ယောရှဖတ်ကိုစစ်တိုက်ခြင်းငှါလာကြ၏။-
၂ ဆိုင်ကြီး၊ တစုံတယောက်လာ၍၊ ပင်လယ်တဘက်၊ ရှုရိပြည်ထဲကများစွာသော
အလုံးအရင်းစစ်မှု လာ၍၊ အင်္ဂေဒိ အမည်ရှိ
သောဟာဇာဇုန်တာမာမြို့မှာရှိကြပါပြီဟု လျှောက်သော
၃ ကြောင့် ကြားလျှင်- ယောရှဖတ်
သည်ကြောက်၍၊ ထာဝရဘုရားကိုရှာခြင်းငှါ
ထသောလျှက်၊ အစာရှောင်ရာအမိန့်ကို၊ ယုဒ
ပြည် တရှောက်လုံး၌ ကြော်ညာစေတော်မူ၏။-
၄ ယုဒ လူတို့သည် ထာဝရ ဘုရား ကို ဆုတောင်း
မည်ဟု စုဝေး၍၊ ထာဝရဘုရားကို ရှာဖွဲ့သော
ငှါ၊ ယုဒမြို့ရှိသမျှမှ ထွက်လာကြ၏။
၅ ယောရှဖတ်သည်ဗိမာန်တော်တန်ထိုင်းအသစ်
ရှေ့၊ ယုဒ ပြည်သူ၊ ယေရုရှလင် မြို့သား စည်း
၆ ဝေးရာပရိသတ်အလယ်၌ရပ်လျက်- ဘိုးဘေး
တို့၏ ဘုရား သခင် ထာဝရ ဘုရား၊ ကိုယ်တော်
သည် ကောင်းကင်ဘုံ၏ အရှင် ဘုရား သခင်
ဖြစ်တော်မူသည် မဟုတ်လော။ တပါး အမျိုး
သားနေရာ တိုင်းနိုင်ငံရှိသမျှတို့ကို အစိုးရတော်
မူသည်မဟုတ်လော။ အဘယ်သူမျှမဆီးတား
နိုင်အောင်၊ တန်ခိုးအာနုဘော်ကြီးတော်မူသည်မ
၇ ဟုတ်လော။- ဤပြည်၌ နေဘူးသော လူတို့ကို
ကိုယ်တော်၏လူ ဣသရေလ အမျိုး ရှေ့မှ နှင်
ထုတ်၍၊ ကိုယ်တော် အဆွေ အာဗြဟံ၏ သား
မြေးတို့ အား၊ ဤ ပြည် ကို အစဉ် ပေး တော်မူ
သော အကျွန်ုပ် တို့၏ ဘုရား သခင် ဖြစ်တော်မူ
၈ သည်မဟုတ်လော။- သူတို့သည် နေရာ ကျ၍၊
နာမတော်အဖို့ သန့်ရှင်းရာ ဌာနတော်ကို တည်
၉ ဆောက်ကြသောအခါ၊-အကျွန်ုပ်တို့အပေါ်မှာ
ထား လေ။ ဓါး ထက် ခတ် ခြင်း ဘေး၊ ကာလနာ
ဘေး၊ မွတ်သိပ်ခြင်း ဘေး တစုံတခု ရောက်၍၊
နာမတော်ဖြင့်သမုတ်သောဤအိမ်တော်၊ အထံ
တော်သို့ အကျွန်ုပ် တို့သည် ရှည်ထောက်၍၊ ဆင်း
ရဲ ဒုက္ခ ကြောင့် အော်ဟစ် ကြသော အခါ နား

တောင်၌ကယ်မတော်မူပါဟု လျှောက်ထားကြ
၁၀ ပါပြီ။-ယခုတွင်၊ ဣသရေလအမျိုးသားတို့သည်
အဲဂုတ္တုပြည်မှ ထွက်လာသောအခါ၊ ထိုက်ရ
သောအခွင့်ကိုပေးတော်မမူ၍ ထွဲရှောင်၍ မဖျက်
ဆီးဘဲထားခဲ့သော အမ္မုန်အမျိုးသား၊ မောဘ
၁၁ အမျိုးသား၊ စိရတောင်သားတို့သည်- အကျွန်ုပ်
တို့အား အပိုင်ပေးတော်မူသော အမွေခံရာမြေ
ထဲက အကျွန်ုပ်တို့ကို နှင်ထုတ်ခြင်းငှါ လာ၍၊
အဘယ်သို့ကျေးဇူး ဆပ်ကြပါသည်ကို ကြည့်
၁၂ ရှုတော်မူပါ။- အိုအကျွန်ုပ်တို့ ဘုရားသခင်၊ သူ
တို့ကိုမစီရင်ဘဲ နေတော်မူမည်လော။ အကျွန်ုပ်
တို့ကို တိုက်ဖို့သောငှါ လာသော ဤအလုံး အ
ရင်းကြီးကို၊ အကျွန်ုပ်တို့သည်ဆီးတားခြင်းငှါ
မတတ်နိုင်ပါ။ အဘယ်သို့ပြုရမည်ကိုမသိပါ။
ကိုယ်တော်ကိုသာ မျှော်ကြည့်လျက် နေကြပါ
၁၃ သည် ဟု ဆုတောင်း၍- ယုဒ လူအပေါင်းတို့
သည် သားမယားသူငယ်တို့နှင့်တကွ၊ ထာဝရ
ဘုရားရှေ့တော်၌ရပ်နေကြ၏။
၁၄ ထိုအခါပရိသတ်အလယ်၌ရှိသောလေဝိအ
မျိုး၊ အာသပ်အနွယ်၊ မဿနိ၊ ယေလေလ၊ ဗေ
နာယ၊ ဇာခရိတို့မှဆင်းသက်သော ယဟာဇေ
လ အပေါ်သို့၊ ထာဝရဘုရား၏ ဝိညာဉ်တော်
၁၅ သည်သက်ရောက်၍- ထိုသူက၊ အိုယောရှဖတ်
မင်းကြီးနှင့်ယုဒပြည်သူ၊ယေရုရှလင်မြို့သားအ
ပေါင်းတို့၊ နားထောင်ကြလော့။ ထာဝရဘုရား
မိန့်တော်မူသည်ကား၊ ထိုအလုံး အရင်း ကြီး
ကြောင့်မကြောက်ကြနှင့်။ စိတ်မပျက်ကြနှင့်။ စစ်
မှုသည်သင်တို့တာမဟုတ်၊ ဘုရားသခင်တာဖြစ်
၁၆ ၏။- နက်ဖန်နေ့ သူတို့ရှိရာသို့ ဆင်းသွားကြလော့။
သူတို့သည် ဇိဇမြို့သို့ တက်ချလမ်းဖြင့် လာကြ
စဉ်၊ ယေရွေလ တောစနား၊ မြိုင်ဝမှာ သင်တို့
၁၇ တွေ့ကြလိမ့်မည်။- ထိုရာတွင်၊ အိုယုဒပြည်သူ၊
ယေရုရှလင် မြို့သားတို့၊ သင်တို့သည် စစ်တိုက်
စရာအကြောင်းမရှိသည်ဖြစ်၍၊ တည်ကြည်စွာ
မတ်တတ် နေလျက်၊ ထာဝရ ဘုရား ကယ် တင်
တော် မူခြင်း ကျေးဇူး ကို ကြည့်ရှု ကြလော့။ မ
ကြောက်ကြနှင့်။ စိတ်မပျက်ကြနှင့်။ နက်ဖန်နေ့
ရှိသွားကြလော့။ ထာဝရဘုရားသည်သင်တို့နှင့်
၁၈ အတူရှိတော်မူလိမ့်မည်ဟုမြွက်ဆို၏။- ယောရှ
ဖတ်သည်မြေပေါ်မှာဦးချ၍ ယုဒပြည်သူ၊ယေရု
ရှလင် မြို့သား အပေါင်း တို့သည် ထာဝရဘုရား
ရှေ့တော်၌ပြပ်ဝပ်လျက်၊ ထာဝရဘုရားကို ကိုး
၁၉ ကွယ်ကြ၏။- လေဝိအမျိုး၊ ကောဟတ်အနွယ်
သားနှင့်ကောရအနွယ်သားတို့သည်၊ ဣသရေ
လအမျိုး၏ဘုရားသခင်ထာဝရဘုရားကို၊ကျယ်
သောအသံနှင့်ချီးမွမ်းခြင်းငှါရပ်နေကြ၏။
၂၀ နက်ဖန် နံနက် စောစောထ၍၊ တေကောအတော
သို့ထွက်သွားကြ၏။ သွားကြစဉ်တွင်၊ ယောရှ
ဖတ်သည်ရပ်၍၊အိုယုဒပြည်သူ၊ယေရုရှလင်မြို့
သားတို့၊ နားထောင်ကြလော့။ သင်တို့၏ဘုရား
သခင်ကို ယုံကြည် ကြလော့။ သို့ပြုလျှင်၊ တည်
ကြည်ကြလိမ့်မည်။ ပရောဖက် တော်တို့ကို ယုံ
ကြည်ကြလော့။ သို့ပြုလျှင်၊ အောင်မြင်ကြလိမ့်
၂၁ မည်ဟုမိန့်တော်မူ၏။- လူများနှင့်တိုင်ပင်ပြီးမှ၊
ထာဝရဘုရား၏ ကရုဏာတော်သည်အစဉ်အ
မြဲ တည်သောကြောင့်၊ ဂုဏ်ကျေးဇူးတော်ကို
ချီးမွမ်းကြလော့ဟု၊ တပ်ရှေ့မှာ ရှိသွားလျက်၊
သန့်ရှင်းခြင်းအသရေကိုချီးမွမ်းရသောသီချင်း
သည်တို့ကို ထာဝရဘုရားအဖို့ ခန့်ထားတော်မူ
၂၂ ၏။-ထိုသူတို့သည်ချီးမွမ်းရာ၊သီချင်းကိုဆိုစပြု
ကြသော အခါ၊ ယုဒပြည်ကို တိုက်ဖို့ သောငှါ
လာသော စိရ တောင်သားတို့ကို အမ္မုန် အမျိုး
သား၊ မောဘအမျိုးသားတို့တဖက်၌၊ ထာဝရ
ဘုရားချောင်းမြောင်း စေတော်မူသဖြင့်၊ အမ္မုန်
အမျိုးသား၊ မောဘ အမျိုးသားတို့သည် အထိ
၂၃ အမိုက်ခံရသောကြောင့်- တဖန်စိရတောင်သား
တို့ကိုသုတ်သင်ပယ်ရှင်းခြင်းငှါလှန်၍တိုက်သ
ဖြင့်၊ အကုန်အစင်သတ်ပြီးမှ၊ တယောက်ကိုတ
ယောက်တိုက်မိုက်၍ပျက်စီးခြင်းသို့ရောက်ကြ
၂၄ ၏။- ယုဒလူတို့သည် တော၌ရှိသောကင်းမျှော်
စင်သို့ ရောက်၍၊ ထိုအလုံး အရင်းကို ကြည့် ရှု
သောအခါ၊ ထိုလူအပေါင်းတို့သည် တယောက်
မျှမလွတ်၊မြေပေါ်မှာလဲသောအသေကောင်ဖြစ်
၂၅ ကြ၏။- ယောရှဖတ်နှင့်သူ၏လူတို့သည်၊ ရန်သူ
တို့ဥစ္စာကို လုယူခြင်းငှါ လာကြ သောအခါ၊ အ
သေကောင်တို့၌များစွာသောဥစ္စာ၊ အဘိုးထိုက်
သော တန်ဆာတို့ကိုတွေ့သဖြင့်၊ ထမ်း၍မသွား
နိုင်အောင် လုတ်ယူကြ၏။ ထက်ရဥစ္စာ အလွန်
များသောကြောင့်၊ သုံးရက်ပတ်လုံးလုယူထုပ်
၂၆ ထားလျက်နေကြ၏။- စတုတ္ထနေ့တွင်ဗရာခချိုင့်
၌ စည်းဝေး၍၊ ထာဝရ ဘုရားကို ကောင်းကြီး
ပေးကြ၏။ ထိုကြောင့်၊ ယနေ့တိုင်အောင် ထိုအ
၂၇ ရပ်သည်ဗရာခချိုင့်ဟူ၍တွင်သတည်း။-ထိုအ
ခါသူတို့သည် ရန်သူတို့အပေါ်မှာဝမ်းမြောက်

သော အခွင့်ကို၊ ထာဝရဘုရားပေးတော်မူသော
ကြောင့်၊ ယောရှဖတ်သည် ရှေ့ဦးစွာကြွ၍ ယုဒ
ပြည်သူ၊ ယေရုရှလင်မြို့သားအပေါင်းတို့သည်၊
ဝမ်းမြောက်သောစိတ်နှင့်ယေရုရှလင်မြို့သို့ပြန်
၂၇ သွား၍-စောင်းထပ်သောတံပိုးကိုတီး၊ မှုတ်လျက်၊
ယေရုရှလင်မြို့၊ ဗိမ်ာန်တော်သို့ ရောက်လာကြ
၂၈ ၏။-ထာဝရဘုရားသည်ဣသရေလအမျိုး၏ရန်
သူတို့ကိုတိုက်တော်မူကြောင်းကို၊ အခြားတိုင်း
နိုင်ငံသားရှိသမျှတို့သည်ကြား၍၊ ဘုရားသခင်
၂၉ ကို ကြောက်ရွံ့ကြ၏။- ထိုသို့ဘုရားသခင်သည်
လေးရပ်ရပ်၌ ငြိမ်ဝပ်သော အခွင့်ကို ပေးတော်မူ
သောကြောင့်၊ ယောရှဖတ် ၏ နိုင်ငံ တော် သည်
သာယာ၏။

၃၀ ယောရှဖတ်သည် အသက် သုံးဆယ်ငါးနှစ်ရှိ
သော်၊ နန်းထိုင်၍ နှစ်ဆယ်ငါးနှစ်ပတ်လုံး ယေ
ရုရှလင်မြို့မှာနေလျက်၊ ယုဒပြည်ကိုစိုးစံလေ၏၊
မယ်တော်ကားရှိလဟိ၏သမီး အဇုဘ အမည်ရှိ၏။-
၃၁ ထို မင်းသည် ခမည်းတော် အာသ လိုက် သော
လမ်းကို မလွှဲ၊ အကုန် အစင် လိုက်၍၊ ထာဝရ
ဘုရားရှေ့တော်၌၊ ဖြောင့် မတ်သောအကျင့် ကို
၃၂ ကျင့်၏။- သို့ရာတွင်၊ မြင့်သောအရပ်တို့ကို
မပယ်ရှား၊လူများတို့သည်ဘိုးဘေးတို့၏ဘုရား
သခင်ကို ဆည်းကပ်ခြင်းငှါ၊ သဘောမဖြောင့်ဖြောင့်
၃၃ ကြသေး၏။- ယောရှဖတ် ပြုမူသော အမှုအရာ
ကြွင်းလေသမျှ အစအဆုံးတို့သည်၊ ဣသရေလ
ရာဇဝင်နှင့်ဆက်၍၊ ဟာနနိသား ယေဟု မှတ်
သောစာ၌ရေးထားလျက်ရှိ၏။

၃၄ နောက်တစ်ဖန်ယုဒရှင်ဘုရင်ယောရှဖတ်သည်၊
၃၅ တာရှုမြို့သို့သွားရသောသင်္ဘောတို့ကိုတည်လုပ်
ခြင်းငှါ၊ အလွန်အဓမ္မအမှုကို ပြုသော ဣသရေ
လရှင်ဘုရင် အာခဇိနှင့်ပေါင်းဖော်ပြီးလျှင်၊ ထို
၃၆ သင်္ဘောတို့ကိုဧဇယုန်ဂါဗာမြို့မှာတည်လုပ်ကြ
၃၇ ၏။-ထိုအခါမရေရှမြို့သူ၊ ဒေါဒဝသား ဧလျေဇာ
က၊ မင်းကြီးသည် အာခဇိနှင့် ပေါင်းဖော် သော
ကြောင့်၊ ထာဝရဘုရားသည် မင်းကြီး ပြုသော
အမှုကိုဖျက်တော်မူပြီဟု၊ ယောရှဖတ်တဘက်၌
ဟောသည်နှင့်အညီ၊ ထိုသင်္ဘောတို့သည်တာရှု
မြို့သို့မသွားနိုင်အောင်ကျိုးပဲ့ကြ၏။

၂၁

၁ ယောရှဖတ်သည်ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊
သူ့ဘိုးနှင့်အတူ ဒါဝိဒ်မြို့၌ သင်းဂြိုဟ်ခြင်းကိုခံ
လေ၏။ သားတော်ယဟောရံသည်ခမည်းတော်
၂ အရာ၌နန်းထိုင်၏။- ယုဒရှင်ဘုရင်ယောရှဖတ်
သား၊ ယဟောရံ၏ ညီ တို့ကား၊ အာဇရိ၊ ယေ
ဟေလ၊ ဇာခရိ၊ အာဇရိ၊ မိက္ခေလ၊ ရှေဖတိ
၃ တည်း။- ခမည်းတော်သည်ငွေ၊ ရွှေ၊ အဖိုးထိုက်သောဥစ္စာ
ဥစ္စာရတနာနှင့်တကွ ယုဒပြည်၌ ခိုင်ခံ့သောမြို့တို့
ကိုသူတို့အားပေး၏၊ နိုင်ငံကိုကား၊ သားဦး ယ
၄ ဟောရံအား ပေး၏။- ယဟောရံ သည် ခမည်း
တော်နိုင်ငံ၌တည်သောအခါ၊ကိုယ်ကိုခိုင်ခံ့စေ၍၊
ညီတော်အပေါင်းတို့ကိုငှင်၊ ဣသရေလမှူးတော်
မတ်တော်တချို့တို့ကိုငှင် ထားနှင့်သတ်လေ၏။
၅ ယဟောရံသည် အသက် သုံးဆယ် နှစ်နှစ် ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ ရှစ်နှစ်စိုးစံ
၆ လေ၏။-အာဟပ်မိုးဘွင့်ရံဝက်သမြင့်၊ဣသရေ
လရှင်ဘုရင်တို့လိုက်ရာလမ်းသို့ အာဟပ်အမျိုး
ကဲ့သို့လိုက်၍ ထာဝရဘုရားရှေ့ တော်၌ ဒုစရိုက်
၇ ကိုပြု၏။- သို့ရာတွင်၊ ထာဝရ ဘုရား သည် ဒါ
ဝိဒ် အစ ရှိ သော သား မြေး တို့၏ မီးခွက်ကို၊ အ
စဉ်ထွန်းလင်းစေမည်ဟု ဂတိတော်ရှိ၍၊ ဒါဝိဒ်
နှင့်ပဋိညာဉ် ဖွဲ့တော်မူသောကြောင့်၊ သူ၏အမျိုး
၈ ကိုမဖျက်ဆီးဘဲထားတော်မူ၏။- ထိုမင်းလက်
ထက်၌၊ ဧဒုံပြည်သားတို့သည်ယုဒရှင်ဘုရင်ကို
ပုန်ကန်၍၊ကိုယ်အမျိုးသားကိုရှင်ဘုရင်အရာ
၉ ၌မြှောက်ကြ၏။-ယဟောရံမင်းသည်မှူးမတ်
များ၊ ရထားစီးသူရဲ များ အပေါင်းတို့နှင့် တကွ
စစ်ချီ၍၊ ညည့်အခါ ဝိုင်းသော ဧဒုံ လူများ၊ ရ
၁၀ ထား၊ အုပ် များ ကို လုပ် ကြံ လေ ၏။- ထို့ ကြောင့်
တည်း။ ဧဒုံပြည်သားတို့သည်ယနေ့ တိုင်အောင်
ယုဒရှင်ဘုရင်ကိုပုန်ကန်ကြ၏၊ ထိုကာလ၌၊ လိ
ဗန ပြည် သည်လည်း ပုန်ကန်၏၊ အကြောင်းမူ
ကား၊ ယဟောရံသည် ဘိုး ဘေး တို့၏ ဘုရား
၁၁ သခင်ထာဝရဘုရားကိုစွန့်၍-ယုဒတောင်တို့အ
ပေါ်မှာ၊ မြင့်သောအရပ်တို့ကိုတည်လုပ်သဖြင့်၊
ယုဒပြည်သူ၊ ယေရုရှလင် မြို့သားတို့သည်၊ အ
ဟါး အမျိုးသား တို့၏ ဘုရားနှင့် မှားယွင်းရမည်
အကြောင်း၊ အနိုင်အထက်ပြုသတည်း။
၁၂ ပရောဖက် ဧလိယ ပေး လိုက်သော စာ သည်
ထိုမင်း ထံသို့ ရောက်သဖြင့်၊ သင့်အဘ ဒါဝိဒ်၏
ဘုရား သခင် ထာဝရ ဘုရား မိန့် တော် မူ သည်
ကား၊ သင်သည် ခမည်းတော်ယောရှဖတ်လမ်း
၁၃ နှင့်ယုဒရှင်ဘုရင်အာသလမ်းသို့ မလိုက်၊-ဣသ
ရေလ ရှင်ဘုရင်တို့ လမ်းသို့ လိုက်သောကြောင့်
၎င်း၊ အာဟပ်အမျိုးမှားယွင်းသည်နည်းတူ ယုဒ

ဖြည်သူ၊ ယေရုရှလင်မြို့သားတို့သည်၊ အပါ၊ အ
မျိုးသားတို့၏ ဘုရားနှင့်၊ မှား ယွင်း ရ မည် အ
ကြောင်းပြုသောကြောင့်၎င်း၊ ကိုယ်ထက်သာ၍
ကောင်းသော ညီရင်းတို့ကို သတ်သောကြောင့်
၁၄ ၎င်- ထာဝရဘုရားသည်သင်၏လူ များ၊ သင်၏
သားမယားများ၊ သင်၏ဥစ္စာ ရှိသမျှကို ကြီးစွာ
၁၅ သောဘေးဖြင့် ဒဏ်ခတ်တော်မူမည်။- သင့်အူ
သည်တနေ့ထက်တနေ့ ထွက်သောင်၊ ဝမ်းထဲ၌
ဖြစ်၍စွဲသော အနာရောဂါ စွဲလိမ့်မည်ဟု စာ၌
ပါသတည်း။
၁၆ ထိုနောက်မှ၊ ထာဝရဘုရားသည် ဖိလိတ္တိလူ၊
ကုရှုပြည်နှင့်နီးသောအာရပ်လူတို့ကို၊ ယဟော
၁၇ ရံမင်း ကဖက် နိုး ဆော်တော် မူ သဖြင့်- သူတို့
သည် ယုဒပြည်သို့ချီလာ၍ လုပ်ကြံကြ၏။ နန်း
တော်၌တွေ့သမျှသောဥစ္စာများနှင့်၊ ရှင်ဘုရင်၏
သားမယားများတို့ကို သိမ်းသွားကြသဖြင့်၊ အ
ထွေးဆုံးသောသားအာခဇိမှတပါး၊ တယောက်
၁၈ မျှမကျန်ကြွင်း။- နောက် တဖန် မပျောက် နိုင်
သော ဝမ်းနာဖြင့်၊ ထာဝရဘုရားသည် ဒဏ်
၁၉ ခတ်တော်မူ၏။- ရှင်ဘုရင်သည်တာရှည်စွာနာ
၍၊ နှစ်နှစ်စေ့သောအခါ၊ အနာ ပြင်းထန်သော
ကြောင့်၊ အူထွက်၍ အသက် ချုပ်လေ၏။ ပြည်
သားတို့သည် ဘိုးတော် ဘေးတော်တို့အဖို့ မီးရှို့
၂၀ ခြင်းကိုပြုသကဲ့သို့၊ ထိုမင်းအဖို့မပြု။-ယဟောရံ
သည်အသက်သုံးဆယ်နှစ်နှစ်ရှိသော်၊ နန်းထိုင်
၍ ယေရုရှလင်မြို့၌ နှစ်နှစ် စိုးစံပြီးမှ၊ အဘယ်
သူမျှ မနှစ်မြောသဲ ေသ သွား၏။ ဒါဝိဒ်မြို့၌ သင်း
ဂြိုဟ် သော်လည်း၊ ရှင်ဘုရင်တို့ သင်းချိုင်း၌မ
သင်းဂြိုဟ်ကြ။

၂၂

၁ အာရပ်လူတို့နှင့်လိုက်လာသောတပ်သားတို့
သည်တပ်ထဲသို့ဝင်၍၊ ယုဒရှင်ဘုရင်ယဟောရံ
၏သားတော် အကြီး ရှိသမျှတို့ကို သတ်သော
ကြောင့်၊ ယေရုရှလင်မြို့သားတို့သည်သားထွေး
အာခဇိကို ခမည်းတော် အရာ၌ ချီးမြှောက် ၍-
၂ အာခဇိသည် အသက် နှစ်ဆယ်နှစ်နှစ် ရှိသော်၊
နန်းထိုင်၍ ယေရုရှလင် မြို့၌ တနှစ် စိုးစံလေ၏။
မယ်တော်ကား၊ ဩမရိမြေးအာသလိအမည်ရှိ
၃ ၏။- မယ်တော်သည် မကောင်းသောအကြံကို
ပေးသောကြောင့်၊ ထိုမင်းသည် အာဟပ်အမျိုး
၄ လိုက်ရာ ထမ်းသို့ လိုက်၍- အာဟပ် အမျိုးကဲ့
သို့ထာဝရဘုရား ရှေ့တော်၌ ဒုစရိုက် ကို ပြု၏။
ခမည်းတော်သေသောနောက်၊ အာဟပ်အမျိုး
သားတို့သည် အာခဇိကို အဆုံးနည်းစေ ခြင်း
၅ ငှါ၊ မကောင်းသောအကြံကိုပေးကြ၏။- အာခဇိ
သည် သူတို့စကားကို နားထောင် သဖြင့်၊ ရှုတ
ရေထ ရှင်ဘုရင် အာဟပ် သား ယောရံ နှင့် ပေါင်း
ဖော်၍၊ ဂိလဒ်ပြည်ရာမုတ်မြို့သို့စစ်ချီ၍၊ ရှုရိရှင်
ဘုရင် ဟာဇေလ ကို တိုက် ရာ တွင်၊ ရှုရိ လူတို့
၆ သည်ယောရံကိုထိခိုက်ကြ၏။- ထိုသို့ရာမုတ်မြို့
၌ ရှုရိရှင်ဘုရင်ဟာဇေလကိုတိုက်၍၊ ရှုရိလူထိ
ခိုက်သောအနာပျောက်စေခြင်းငှါ၊ ယောရံသည်
ယေဇရေလ မြို့သို့ ပြန်သွား၍ နာလျက် နေစဉ်
တွင်၊ ယုဒ ရှင်ဘုရင် ယဟောရံ သား အာခဇိ
သည်လည်း၊ အာဟပ်သား ယောရံကိုကြည့်ရှု
၇ ခြင်းငှါ၊ ထိုမြို့သို့ဆင်းသွားလေ၏။-ဘုရားသခင်
စီရင်တော်မူသည်အတိုင်း၊ အာခဇိသည်ယော
ရံထံသို့ရောက်သောအားဖြင့်၊ ဆုံးရှုံးလေသည်
အကြောင်း အရာဟူမူကား၊ အာဟပ်အမျိုးကို
သုတ်သင် ပယ်ရှင်း စေ ခြင်းငှါ၊ ထာဝရ ဘုရား
ဘိသိက်ပေးတော်မူသောနိမ်ရှိသားယေဟုကို
ဆီးကြို ခြင်း ငှါ၊ ယောရံ နှင့် အာခဇိ တို့သည်
၈ ထွက်သွား၏။- ယေဟုသည်အာဟပ်အမျိုးကို
တရား စီရင်သောအခါ၊ ယုဒ မှူးမတ် တို့ကို၎င်း၊
အာခဇိမင်း၌ ခစားသောနောင်တော်၏ သားတို့
၉ ကို၎င်တွေ့၍ သတ်လေ၏။- ရှမာရိပြည်၌ ပုန်း
လျက်နေသောအာခဇိကိုရှာ၍ဖမ်းမိသောအခါ၊
ယေဟု ထံသို့ ဆောင်ခဲ့ပြီးမှ သတ်၍ သင်းဂြိုဟ်
ကြ၏။ အကြောင်းမူကား၊ သူသည်ထာဝရဘုရား
ကို စိတ်နှလုံး အကြွင်းမဲ့ရှာသော ယောရှဖတ်
၏အမျိုး ဖြစ်သည်ဟု ဆိုကြ၏။ ထိုသို့အာခဇိ၏
မျိုးသည် နိုင်ငံကိုအုပ်စိုးခြင်းငှါမတတ်နိုင်။
၁၀ အာခဇိ၏မယ်တော်အာသလိသည် မိမိသား
သေကြောင်းကို သိမြင်သော်၊ ထ၍ယုဒပြည်၏
ဆွေတော် မျိုး တော် အပေါင်းတို့ကို သုတ် သင်
၁၁ ပယ်ရှင်းလေ၏။-သို့ရာတွင်၊ ရှင်ဘုရင်သမီးယော
ရှေဘသည်၊ အာခဇိ၏သားယောရှကိုအသေခံ
ရသောဆွေတော်မျိုးတော်ထဲက ခိုးယူ၍၊ သူနှင့်
သူ၏နို့ထိန်းကိုအိပ်ခန်းထဲ၌ ဝှက်ထား၏။ ထိုသို့
ယဟောရံမင်းကြီး၏သမီး၊ ယဇ်ပုရောဟိတ်ယော
ယဒ၏မယားဖြစ်သော၊ အာခဇိ၏နှမယောရှေ
ဘသည်၊ အာသလိလက်မှ ယောရှ၏ အသက်
၁၂ လွတ်စေခြင်းငှါ ဝှက်ထားသဖြင့်- မြောက်နှစ်
ပတ်လုံး ယောရှသည်သူတို့နှင့်အတူ၊ ဗိမာန်

တော်၌ပုန်ရှောင်ထွက်နေ၍အာသလိသည်မိုး
စံလေ၏။

## ၂၄

၁ ခုနစ်နှစ်မြောက်သောအခါ၊ ယောယဒသည်
ကိုယ်ကို ခိုင်ခံ့စေ၍ တပ်မှူးများ၊ ယေရောဟံ
သားအာဇရိ၊ ယောဟနန်သား ဣရှမေလ၊ ဩ
ဗက်သားအာဇရိ၊ အဒါယသားမာသေယ၊ ဇိခ
၂ ရိသားဧလိရှဖတ်တို့နှင့် သင်းဖွဲ့လေ၏။ ထိုသူ
တို့သည်ယုဒပြည်၌လှည့်လည်၍၊ ယုဒမြို့အ
ရပ်ရပ်ထဲက လေဝိသားများနှင့် ဣသရေလအ
ဆွေအမျိုး သူကြီးများကို စုဝေးစေ၍၊ ယေရုရှ
၃ လင်မြို့သို့ ပြန်လာကြ၏။ စည်းဝေးသော သူအ
ပေါင်းတို့ သည် ဗိမ္မာန်တော်၌၊ ရှင်ဘုရင်နှင့်
ပဋိညာဉ် ဖွဲ့ကြ၏။ ယောယဒကလည်း၊ ရှင်ဘု
ရင် သား တော်ကို ကြည့်ရှု ကြလော့၊ ထာဝရ
ဘုရားသည်ဒါဝိဒ်အမျိုးကို မိန့်တော်မူသည်အ
၄ တိုင်း၊ ရှင်ဘုရင်သားတော်မိုးစံရမည်။- သင်တို့
ပြုရသော အမှု ဟူမူကား၊ ဥပုသ်နေ့၌ ဝင်သော
ယဇ်ပုရောဟိတ်လေဝိသားသုံးစုတစုသည်တံ
၅ ခါးစောင့် လုပ်ရမည်။ တစုသည် နန်းတော်ကို
စောင့်ရမည်။ တစုသည် ဟုရတ်ခါးကို စောင့်ရ
မည်။ လူအပေါင်းတို့သည် မိတ်မှန် တော် တန်
၆ တိုင်းတို့ အတွင်း၌ နေရကြမည်။- ယဇ်ပုရော
ဟိတ်များနှင့်အမှုတော်စောင့်လေဝိသားများမှ
တပါး၊ အဘယ်သူမျှ မိတ်မှန်တော်ထဲသို့ မဝင်
စေနှင့်၊ သူတို့သည်သန့်ရှင်းသောကြောင့် ဝင်ရ
ကြမည်၊ အခြားသောသူအပေါင်းတို့သည်ထာ
၇ ဝရဘုရား ထက်၌ စောင့်နေ ရကြမည်။- လေဝိ
သားတိုင်း မိမိလက်နက်ကို ကိုင်လျက်၊ ကိုယ်တိ
တော်ခြံကို ဝိုင်း၍ အိမ်တော် ထဲသို့ ဝင် သမျှ
သောသူတို့ကိုသတ်ရမည်၊ ရှင်ဘုရင် ထွက်ဝင်
တော်မူသောအခါ၊ နောက်တော်သို့လိုက်ရမည်
၈ ဟု မှာ ထား လေ ၏။- ထိုသို့ ယဇ် ပုရော ဟိတ်
ယောယဒမှာထားသမျှအတိုင်းလေဝိသားများ
နှင့်ယုဒအမျိုးသားအပေါင်းတို့သည်ပြု၍ယဇ်
ပုရောဟိတ်ယောယဒသည် ခွဲပြီးခွဲသောအသင်း
တို့ကို မလွှတ်သောကြောင့်၊ ဥပုသ်နေ့၌ထွက်ရ
သော သူ နှင့် ဝင်ရ သော လူ အသီး အသီး တို့ကို
၉ ခေါ်ထားကြ၏။- မိတ်မှန်တော်၌ ရှိသောဒါဝိဒ်
မင်းကြီး၏ လှံများနှင့် ဒိုင်းလွှားများကို၊ ယဇ်ပု
ရောဟိတ်ယောယဒသည်ထုတ်၍၊ လူတရာမှူး
၁၀ တို့အား အပ်လေ၏။- အသီး အသီး လက် နက်
ကိုင်သောသူအပေါင်းတို့ကိုရှင်ဘုရင်တော်ထည်း၊
ယဇ်ပလ္လင် အနားနှင့် မိတ်မှန်တော် အနားမှ၊
လက်ျာထောင့်မှစ၍လက်ဝဲထောင့်တိုင်အောင်၊
၁၁ နေရာ ချထား လေ ၏။- ထိုအခါ ရှင်ဘုရင် သား
တော်ကိုပြင်သို့ထုတ်၍၊ ရာဇသရဖူနှင့်ပညတ္တိ
ကျမ်းကိုတင်လျက်၊ ရှင်ဘုရင်အရာ၌ချီးမြှောက်
ကြ၏။ ယောယဒနှင့်သူ၏သားတို့ထပ် ဘိသိက်
ပေး၍၊ ရှင်ဘုရင်အသက်တော်ရှင်စေသတည်း
ဟု ကျွေးကြော်ကြ၏။
၁၂ အာသလိသည် လူများ ပြေး၍၊ ရှင်ဘုရင်ကို
ချီးမွမ်း သံကို ကြားလျှင်၊ လူများရှိရာမိတ်မှန်
၁၃ တော်သို့သွား၍- ရှင်ဘုရင်သည် မိတ်မှန်တော်
ဝင်ဝ၊ တိုင်နားမှာရပ်လျက်၊ မှူးတော်မတ်တော်
များ၊ နှင့် တံပိုး မှုတ် သော သူ များ ထို သည် ရှင်
ဘုရင် အနား၊ တော်၌ ရပ် လျက်၊ ပြည်သူ ပြည်
သား များတို့သည် ဝမ်း မြောက်၍၊ တံပိုးမှုတ်
လျက်သီခြင်းသည်ထိုသည် တူရိယာ တန်ဆာ
ကိုကိုင်၍၊ ထောမနာ သီခြင်းကို ဆို လျက် ရှိကြ
သည်ကိုမြင် လျှင်၊ မိမိအဝတ်ကိုဆုတ်၍ပုန်ကန်
မှုပါတကား၊ ပုန်ကန်မှုပါတကားဟုအော်ဟစ်
၁၄ လေ၏။- ယဇ်ပုရောဟိတ် ယောယဒ လည်း၊
မိတ်မှန်တော် ထဲမှာ မသတ် စေနှင့်၊ ထုတ်ခြင်းသို့
ထုတ်ကြ၊ သူ့ထက်မှာ နေသော သူကို ထား နှင့်
သတ်ကြဟုလူတရာမှူးတို့ကိုမှာထား
၁၅ နှင့်သည်အတိုင်း၊- အာသလိကိုဝမ်းဆီးလျက်၊
နန်းတော်သို့ သွားသောမြင်းတံခါးဝသို့ ရောက်
သောအခါသတ်ကြ၏။
၁၆ ရှင်ဘုရင်နှင့် လူ အပေါင်းတို့သည် ထာဝရ
ဘုရား၏ လူဖြစ်ရမည် အကြောင်း၊ ယောယဒ
၁၇ သည်မိမိထံ၌ပဋိညာဉ်ဖွဲ့စေ၏။- လူအပေါင်းတို့
သည် ဗာလကျောင်းသို့ သွား၍ ဖြိုဖျက်ကြ၏။
ယဇ်ပလ္လင်များနှင့်ရုပ်တုများကိုဖြိုခွဲ၍၊ ယဇ်
ပလ္လင်တို့ရှေ့မှာ ဗာလယဇ်ပုရောဟိတ် မဿန်
၁၈ ကိုသတ်ကြ၏။- မောရှေပညတ္တိကျမ်း၌ပါသည်
အတိုင်း၊ ထာဝရဘုရားအားမီးရှို့ရာယဇ်တို့ကို
ပူဇော်ခြင်း၊ ဒါဝိဒ်မိန့်သည်အတိုင်း၊ ရွှင်လန်း
စွာသီခြင်း သို့ဖြင့်၊ အမှုကိုပြုစေခြင်းငှါ၊ မိတ်မှန်
တော်၌၊ ဒါဝိဒ်ခွဲထားသော ယဇ်ပုရောဟိတ်
လေဝိသား တို့သည် မိတ်မှန် တော် မှုများ ကို
ဆောင်ရွက် မည် အကြောင်း၊ ယောယဒ စီရင်
၁၉ လေ၏။- မသန့်ရှင်းသော အကြောင်းတစုံတခုနှင့်
ထေ့သူကိုမဝင်စေခြင်းငှါ၊ မိတ်မှန်တော်တံခါး

၂၀ စောင့် တို့ကိုလည်း ခန့်ထား လေ၏။- လူတရာ
ရောဝ်၊ မှူးမတ်၊ အကြီးအကဲ၊ ပြည်သူ ပြည်သား
အပေါင်းတို့ကိုခေါ်လျက်၊မြင့်သောတံခါးလမ်း
ဖြင့်၊ ရှင်ဘုရင်ကိုဗိတ်မှန်တော်မှနန်းတော်သို့ပို့
ဆောင်၍၊ ရာဇပလ္လင်တော်ပေါ်မှာတင်ကြ၏။-
၂၁ နန်းတော် နားရှာအာသလိကို သတ်ပြီးမှ၊ ပြည်
သူပြည်သား အပေါင်းတို့သည် ဝမ်းမြောက်၍၊
တမြို့လုံး၌လည်းငြိမ်ဝပ်ခြင်းရှိ၏။

၂၄

၁ ယောရှသည် အသက်ခုနှစ်နှစ်ရှိသော်၊ နန်း
ထိုင်၍ယေရုရှလင်မြို့၌ အနှစ်လေးဆယ်စိုးစံ၏။
မယ်တော်ကား၊ ဗေရရှေဘမြို့သူ ဇိဗိအမည်ရှိ
၂ ၏။- ယဇ်ပုရောဟိတ်ယောယဒလက်ထက်ကာ
လ ပတ်လုံး၊ ယောရှ သည် ထာဝရ ဘုရားရှေ့
၃ တော်၌၊ တရားသော အမှုကိုပြု၏။- ယောယဒ
ယူစားသော မိဖုရားနှစ် ယောက်နှင့် စုံဖက်၍ သား
သမီးတို့ကိုမြင်ရ၏။
ထိုနောက်မှ၊ယောရှသည်ဗိတ်မှန်တော်ကိုပြု
၄ ပြင်မည်အကြံရှိလျက်- ယဇ်ပုရောဟိတ်လေဝိ
သားတို့ကို စုဝေးစေ၍၊ သင်တို့ ဘုရား သခင်၏
အိမ်တော်ကို ပြုပြင်ခြင်းငှါ၊ ယုဒမြို့တို့ကိုလှည့်
လည်သဖြင့်၊ နှစ်တိုင်းအစည်းဣသရေလလူ အ
ပေါင်းတို့မှငွေကိုခံယူ၍၊အမှုပြီးအောင်ကြိုးစား
အားထုတ်ကြလော့ဟု မိန့်တော်မူ၏။ သို့သော်
လည်း၊ လေဝိသားတို့သည်မကြိုးစားဘဲနေကြ
၅ ၏။- တဖန်ရှင်ဘုရင်သည် ယဇ်ပုရောဟိတ်အ
ကြီးယောယဒကိုခေါ်၍၊သက်သေခံတော်မူဘုက်
ထဲတော်အဖို့၊ ထာဝရဘုရား၏ကျွန်မောရှေနှင့်
စည်းဝေးရာဣသရေလပရိသတ်ပြုသည်နည်း
တူ၊လေဝိသားတို့သည်ယေရုရှလင်မြို့မှစ၍ယုဒ
ပြည်အရပ်ရပ်တို့မှငွေကိုခံယူ၍ဆောင်ခဲ့ရမည်
အကြောင်း၊၊ အဘယ်ကြောင့်မမှာထားဘဲနေသ
၆ နည်းဟု မေးတော်မူ၏။- အဓမ္မမိန်း အာသလိ၏
သားတို့သည် ဗိတ်မှန်တော်ကို ဖြိုဖျက်၍၊ ဗိတ်
မှန်တော်၌ ပူဇော် သော အဏ္ဏာ ရှိသမျှ တို့ကို
၇ လည်း ဗာလဘုရားတို့အားပူဇော်ကြ၏။- ရှင်
ဘုရင်အမိန့်တော် အတိုင်းသစ်တာကို လုပ်၍၊
ဗိတ်မှန် တော်ပြင်၊ တံခါး နားမှာ ထားကြ၏။-
၈ ဘုရားသခင်၏ကျွန်မောရှေသည်တောမှာဣသ
ရေလအမျိုး၌ငွေခွဲသည့်အတိုင်း၊ ထာဝရဘုရား
အထံတော်သို့ဆောင်ခဲ့ရမည်ဟု၊ယေရုရှလင်မြို့
မှစ၍ယုဒပြည် အရပ်ရပ်၌ ကြော်ညာကြ၏။-
၁၀ မင်းများနှင့်ပြည်သူပြည်သားများအပေါင်းတို့
သည်၊ ဝမ်းမြောက် သော စိတ်နှင့် ဆောင် ခဲ့၍၊
လက်စသတ်သည် တိုင်အောင် သစ်တာ ထဲသို့
၁၁ သွင်းထားကြ၏။- ထိုသစ်တာကို လေဝိသားတို့
သည်ဘဏ္ဍာတော်တိုက်ထဲသို့သွင်း၍၊ ငွေများ
သည်ကိုသိမြင်လျှင်၊ ရှင်ဘုရင်၏စာရေးတော်
ကြီးနှင့်ယဇ်ပုရောဟိတ်မင်း၏ စာရေးသဉ်လာ
၍၊ ငွေကိုထုတ်ယူပြီးမှ၊ သစ်တာကိုသူနေရာ၌
ထားပြန်၏။ထိုသို့နေ့တိုင်းပြု၍များစွာသောငွေ
၁၂ ကိုစုထားကြ၏။-ရှင်ဘုရင်နှင့် ယောယဒသည်
ဗိတ်မှန်တော်၏ အမှုတော်စောင့်တို့၌ ထိုငွေကို
အပ်၍၊ ဗိတ်မှန်တော်ကို ပြုပြင်စေခြင်းငှါ၊ ပန်း
ရန် သမား၊ လက် သမား၊ ပန်းပဲ သမား၊ ပန်း
၁၃ တည်း သမား တို့ အား ပေးဝေကြ၏။- အလုပ်
လုပ်သောသူတို့သည် ကြိုးစား၍ ပြုပြင်သဖြင့်၊
ဗိတ်မှန်တော်ကိုပကတိအဖြစ်၌ခိုင်ခံ့စေကြ၏။-
၁၄ လက်စ သတ်သော အခါ၊ ကျန်ကြွင်းသောငွေ
ကို ရှင်ဘုရင်နှင့် ယောယဒ ထံသို့ယူခဲ့၍၊ ထိုငွေ
နှင့်ဗိတ်မှန်တော်၌ အမှုတော်ကို ဆောင်ရွက်ပူ
ဇော်ရန် တန်ဆာ၊ ရွှေဖလား၊ ငွေဖလား၊ ခွက်
များကို လုပ်ကြ၏။ ယောယဒလက်ထက်ကာလ
ပတ်လုံး၊ ဗိတ်မှန်တော်၌မီးရှို့ရာယဇ်ကိုအစဉ်
၁၅ ပူဇော်ကြ၏။ ယောယဒသည်အို၍ကာလပြည့်
စုံရာရောက်လျှက်၊ အသက် တရာ သုံး ဆယ်ရှိ
သော်သေ၍- ဒါဝိဒ်မြို့မှာရှင်ဘုရင် တို့တွင်သင်း
ဂြိုဟ်ခြင်းကို ခံလေ၏။ အကြောင်းမူကား၊ ဣသ
ရေလအမျိုးတွင်ဘုရားသခင်၌၎င်း၊အိမ်တော်၌
၎င်း၊ကျေးဇူးပြုသောသူဖြစ်သတည်း။
၁၇ ယောယဒသေသောနောက်၊ ယုဒမင်းတို့သဉ်
ရှင်ဘုရင် ထံတော်သို့လာ၍ ရှိခိုးကြ၏၊ သူတို့စ
၁၈ ကားကိုရှင်ဘုရင်နားထောင်သဖြင့်-သူတို့သည်
ဘိုးဘေးတို့၏ဘုရားသခင်ထာဝရဘုရား၏အိမ်
တော်ကိုစွန့်၍၊ အာရှရပင်နှင့်ရုပ်တုတို့ကိုဝတ်
ပြုကြ၏။ထိုအပြစ်ကြောင့်အမျက်တော်သည်ယု
ဒပြည်နှင့်ယေရုရှလင်မြို့အပေါ်မှာ သက်ရောက်
၁၉ လေ၏။- သူတို့ကို ထာဝရ ဘုရား ထံတော် သို့
သွေး ဆောင် စေ ခြင်း ငှါ၊ ပရောဖက် တို့ကို စေ
လွှတ်တော်မူ၍၊ ပရောဖက်တို့သည် သက်သေခံ
၂၀ သော်လည်း၊သူတို့သည်နားမထောင်ကြ။- တ
ဖန်ဘုရားသခင်၏ဝိညာဉ်တော်သဉ်ယဇ်ပုရော
ဟိတ် ယောယဒသား ဇာခရိ အပေါ်မှာ သက်
ရောက်၍၊ သူ သည် ပရိသတ် အထက်၊ မြင့်

သောအရပ်၌ရပ်လျက်၊ ဘုရားသခင်မိန့်တော်မူ
သည်ကား၊ သင်တို့သည် ကိုယ်အကျိုးကို ပျက်
စေခြင်းငှါ၊ ထာဝရဘုရား၏ပညတ်တော်တို့ကို
အဘယ်ကြောင့် လွန်ကျူး ကြသနည်း၊ သင်တို့
သည် ထာဝရဘုရားကို စွန့်သောကြောင့်၊ သင်
၂၁ တို့ကိုလည်း စွန့်တော်မူပြီဟုမြွက်ဆို၏။-လူများ
တို့သည်သူကိုမကောင်းသောအကြံနှင့်တိုင်ပင်
၍၊ ရှင်ဘုရင် အမိန့်တော်နှင့် မိတ်မှန်တော် အ
၂၂ တွင်း၌ ကျောက်ခဲနှင့်ပစ်၍သတ်ကြ၏။ ထိုသို့
ယောရှမင်းကြီးသည် ဇာခရိ၏အဘ ယောယဒ ပြု
သော ကျေးဇူးကို မအောက်မေ့၊ သားကို သတ်
လေသည်တကား၊ ဇာခရိသေသောအခါ၌တမူ
ကိုထာဝရဘုရားသည်ကြည့်ရှုစစ်ကြောတော်မူ
စေသတည်းဟုဆို၏။
၂၃ ထိုနှစ်အဆုံး၌၊ ရှုရိတပ်သားတို့သည် စစ်ချီ
၍လာကြသဖြင့်၊ ယုဒပြည် ယေရုရှလင်မြို့သို့
ရောက်၍၊ မှူးမတ် အရာရှိ အပေါင်းတို့ကို သုတ်
သင်ပယ်ရှင်း၍၊ လက်ရဥစ္စာ ရှိသမျှတို့ကို ဒမာ
၂၄ သက်ရှင်ဘုရင်ထံသို့ ပေးလိုက်ကြ၏။- ယုဒလူ
တို့သည် ဘိုးဘေးတို့၏ ဘုရားသခင် ထာဝရ
ဘုရားကို စွန့်သောကြောင့်၊ များပြားသော အ
လုံးအရင်းဖြစ်သော်လည်း၊ နည်းသောရှုရိတပ်
အလုံးအရင်းလက်သို့ ထာဝရဘုရားအပ်တော်
မူ၍၊ ရှုရိလူတို့သည်ယောရှကို တရားစီရင်ကြ
၂၅ ၏။-ရန်သူထွက်သွားသောအခါ၊ ယောရှသည်
ကြီးစွာသော ရောဂါကို ခံရလျက် နေရစ်သည်ဖြစ်
၍၊ ယဇ်ပုရောဟိတ်ယောယဒသားတို့ကိုသတ်
သော အပြစ်ကြောင့်၊ မိမိကျွန်တို့သည် သင်းဖွဲ့
၍၊ ထားလွန်တော်ပေါ်မှာ သေအောင်လုပ်ကြံကြ
၏။ ထိုမင်းကို ဒါဝိဒ်မြို့၌ သင်းဂြိုဟ်သော်လည်း၊
၂၆ ရှင်ဘုရင်တို့တွင်းမသင်းဂြိုဟ်။-လုပ်ကြံသောသူ
ကား၊ အမ္မုန်အမျိုးသမီး ရှိမတ်သားယောဇဗဒ်
နှင့်မောဘ အမျိုးသမီး ရှိမရိတ်သား ယဟောဇ
၂၇ ဗဒ်တည်း။- ယောရှသည် သား ရှိခြင်း၊ အရာ၊
လေးသော အမှုကို ထမ်းခြင်း၊ အရာ၊ ဗိမာန်
တော်ကို ပြုပြင်ခြင်း အရာ တို့သည် ရာဇဝင် နှင့်
ဆက်သောစာ၌ရေးထားလျက်ရှိ၏။ သားတော်
အာမဇိသည်ခမည်းတော်အရာ၌နန်းထိုင်၏။

၂၅

၁ အာမဇိသည်အသက်နှစ်ဆယ်ငါးနှစ်ရှိသော်၊
နန်းထိုင်၍ ယေရုရှလင်မြို့၌ နှစ်ဆယ်ကိုးနှစ် ပြု
စု၏။ မယ်တော်ကား၊ ယေရုရှလင်မြို့သူယုဒန်အ
၂ မည်ရှိ၏။-ထိုမင်းသည်ထာဝရဘုရားရှေ့တော်
၌၊ တရားသောအမှုကိုပြုသော်လည်း၊ စိတ်နှင့်
၃ ထုံးမနှံထင်။- အာမဇိသည်မင်းအာဏာတည်
သောအခါ၊ ခမည်းတော်မင်းကြီးကိုသတ်သော
ကျွန်တို့ကိုသတ်လေ၏။-သား အတွက်အဘသေ
အသေမခံရ၊ အဘအတွက်သားသည် အသေမခံ
ရ၊ လူတိုင်းမိမိအပြစ်ကြောင့်အသေခံရမည်ဟု မော
ရှေပညတ်ကျမ်း၌ရေးထား လျက် ရှိသော
ထာဝရဘုရား၏ ပညတ်တော်ကို စောင့်ရှောက်
၍၊ ထိုကျွန်တို့၏သားများကိုမသတ်ဘဲနေ၏။
၅ အာမဇိမင်းသည် ယုဒလူတို့ကို စုဝေးစေ၍၊
ယုဒလူနှင့် ဗယာမိန်လူ တို့ တွင်၊ အဆွေအမျိုးအ
လိုက် လူတထောင်အုပ်၊ တရာအုပ် တို့ ကို ခန့်
ထား၏။ အသက်နှစ်ဆယ်လွန်၍၊ လှံနှင့်ဒိုင်းကို
ကိုင်တတ်သော စစ်သူရဲ ကောင်း ထိုသည်၊ အ
ရင်းဝင်သည် အတိုင်း သုံးသိန်း ရှိကြ၏။- ခွန်
အားကြီးသော ဣသရေလသူရဲတသိန်းကိုလည်း
၆ ငွေအခွက် တထောင် နှင့် ငှါး၏။- ထိုရာတွင်၊
ဘုရားသခင်၏ လူတယောက် သည် လာ၍ ဆို
သည်ကား၊ အိုမင်းကြီး၊ ဣသရေလတပ်ကိုမလိုက်စေနှင့်၊ ထာ
ဝရဘုရားသည် ဣသရေလလူတည်းဟူသော ဧ
ဖရိမ်အမျိုးသားအပေါင်းတို့နှင့် အတူရှိတော်
၈ မမူ။-မင်းကြီးသွားလိုလျှင်သွား၍စစ်ထိုးခြင်း
ငှါ ခိုင်ခံ့သော်လည်း၊ ရန်သူရှေ့မှာဘုရားသခင်
လှဲစေတော်မူမည်၊ ဘုရားသခင်သည်မစခြင်းငှါ
၎င်း၊ နှိမ့်ချခြင်းငှါ၎င်းတတ်နိုင်တော်မူ၏ဟုလျှောက်
၉ ဆိုလျှင်- အာမဇိက၊ ဣသရေလတပ်ကိုငှါး၍
ငွေအခွက်တထောင်ကို ပေးမိသောကြောင့်၊ အ
ဘယ်သို့ပြုရမည်နည်းဟု၊ ဘုရားသခင်၏လူကို
မေးမြန်းသော်၊ ဘုရားသခင်၏လူက၊ ထိုမျှမက
ထာဝရ ဘုရား သည် သာ၍ ပေးနိုင်တော်မူ
၁၀ သည်ဟုပြန်ပြော၏။- ထိုအခါအာမဇိသည်ဧ
ဖရိမ်ပြည်မှ ရောက်လာသော စစ်သူရဲ တို့ကို
လွှတ်၍၊ မိမိတို့ နေရာသို့ ပြန်သွား စေခြင်းငှါ
အပ်လိုက်သဖြင့်၊ သူတို့သည် အလွန်အမျက်
ထွက်၍ယုဒပြည်သားတို့၌အပြုံးထားလျက်၊ မိမိ
၁၁ တို့နေရာသို့ပြန်သွားကြ၏။-အာမဇိသည်လည်း
ကိုယ်ကိုခိုင်ခံ့စေ၍ ဆားချိုင့်သို့တပ်ထုတ်ခြင်းငှါ၊ စိ
ရလောဝ် သား တသောင်းကို လုပ်ကြံလေ၏။-
၁၂ ယုဒအမျိုးသားတို့သည် လူတသောင်းကိုအရှင်
ဖမ်း၍၊ ကျောက်တောင်ထိပ်သို့ ဆောင်
သွား၍၊ ကျိုးပဲ့စေခြင်းငှါ ထိုတောင်ထိပ်မှ

၁၃ ၏။-ငိုင်း၍ထိုက်ရသောအခွင့်ကိုအာမဇိမပေး
ဘွတ်ထိုက်သောစစ်သူရဲတို့မူကား၊ ရှမာရိမြို့
စ၍ ဗေသောရုန်မြို့ ထိုင်အောင်၊ ယုဒမြို့တို့ကို
ထိုက်သခြင်း၊ လူသုံးထောင်ကိုသတ်၍၊ ထက်ရ
ဥစ္စာအများကိုသိမ်းသွားကြ၏။
၁၄ အာမဇိသည်ဧဒုံအမျိုးသားတို့ကိုလုပ်ကြံရာ
မှပြန်လာသောအခါ၊ စိရတောင်သား ကိုးကွယ်
သော ဘုရားတို့ကို ဆောင်ခဲ့၍၊ ကိုယ်တိုင် ကိုး
ကွယ်ရာ ဘုရား ဖြစ်စေ ခြင်းငှါ၊ တည် ထောင်
လျှက်သူတို့ ရှေ့မှာ ဦးညွှတ်ချ၍ နံ့သာပေါင်းကို
၁၅ မီး ရှို့လေ၏။-ထာဝရဘုရားသည်အာမဇိကိုအ
မျက် ထွက်၍၊ ပရောဖက် ကို စေလွှတ် တော်မူ
သည်ကား၊မိမိလူတို့ကိုရန်သူလက်မှမကယ်နိုင်
သော၊ တပါး အမျိုးသား ဘုရားတို့ကို အဘယ်
ကြောင့် ဆည်းကပ် သနည်းဟု ပြောဆို လျှင်-
၁၆ ရှင်ဘုရင်က၊ သင်သည် ထိုင်ပင် မှူးမတ် ဖြစ်သ
လော၊ထိတ်ဆိတ်စွာနေလော့၊ အဘယ်ကြောင့်
ရာဇဝတ်ခံချင် သနည်းဟု ဆိုသော်၊ ပရောဖက်
က၊ မင်းကြီးသည် ငါ့လေးသော သတိပေးစကား ကို
နား မထောင်း ဤအမှုကို ပြုမိသော ကြောင့်၊
ဘုရားသခင်သည်မင်းကြီးကို ဖျက်ဆီးမည်ကြံ
တော် မူသည်ကို ငါသိမြင်သည်ဟု၊ ပြောဆိုပြီး
လျှင်တိတ်ဆိတ်စွာနေလေ၏။
၁၇ ထိုနောက်၊အာမဇိသည်တိုင်ပင်ပြီးမှ၊ဣသရေ
လရှင်ဘုရင် ယေဟုသား ဖြစ်သော၊ ယောခတ်
၏သား ယောရှထံသို့သံတမန်ကိုစေလွှတ်၍၊
ငါတို့သည် မျက်နှာချင်း ဆိုင်မိကြကုန်အံ့ဟုမှာ
၁၈ ထိုက်လျှင်-ဣသရေလရှင်ဘုရင်ယောရှက၊
လေဗနုန် ဆူးပင်သည်လေဗနုန်အာရဇ်ပင် ထံ
သို့စေလွှတ်၍၊ သင့်သမီးကိုငါ့သားနှင့်ပေးစားပါ
ဟုဆိုစဉ်တွင်၊ လေဗနုန်သား၌ သားကောင်သည်
၁၉ ရှောက်သွား၍ ဆူးပင်ကို နင်းမိ၏။- သင်က ငါ
သည် ဧဒုံလူတို့ကိုလုပ်ကြံပြီဟုစိုးလျက်၊ငါကြွား
ချင်သောစိတ်ဖြင့်ဖောင်း၏။ သို့ရာတွင်၊ကိုယ်နေရာ၌
နေလော့။ သင့်ကိုယ်တိုင်နှင့်ယုဒပြည်သည်လေး
လျောက်၍ ဆုံးရှုံးစေခြင်းငှါ၊ အဘယ်ကြောင့်အ
မှုရှာသနည်းဟု ယုဒရှင်ဘုရင် အာမဇိကိုပြန်၍
၂၀ မှာထိုက်လေ၏။-ထိုစကားကိုအာမဇိသည်နား
မထောင်၊ အကြောင်းမူကား၊ ဧဒုံပြည်ဘုရားတို့
ကိုဆည်းကပ်သောကြောင့်၊ရန်သူလက်သို့အပ်
၂၁ ခြင်းငှါ၊ဘုရားသခင်စီရင်တော်မူ၏။- ဣသရေ
လ ရှင်ဘုရင်သည် စစ်ချီ၍၊ ယုဒရှင်ဘုရင် နှစ်ပါးတို့
သည် ယုဒပြည် ဗက်ရှေမက် မြို့၌ မျက်နှာချင်း
၂၂ ဆိုင်မိကြသဖြင့်- ဣသရေလအမျိုးသားရှေ့မှာ
ယုဒအမျိုးသားရှုံး၍၊ အသီးအသီးတို့သည်မိမိ
၂၃ တို့နေရာသို့ပြေးကြ၏။-ဣသရေလရှင်ဘုရင်ယ
ေထာရှသည် ယုဒ ရှင်ဘုရင် အာခဇိ သား ဖြစ်
သော၊ယောရှ၏သားအာမဇိကိုဗက်ရှေမက်မြို့
မှာ ဖမ်းမိ၍၊ ယေရုရှလင် မြို့သို့ ဆောင်ခဲ့ပြီး လျှင်၊
ယေရုရှလင် မြို့ရိုးအတောင်လေးရာကို၊ ဧဖရိမ်
တံခါးမှသည် ထောင့်တံခါးတိုင်အောင်ဖြိုဖျက်
၂၄ လေ၏။- ဩဗဒေဒုံထက်တွင်၊ဗိမာန်တော်၌ရှိ
သမျှသောရွှေငွေမှစ၍၊ တန်ဆာအလုံးစုံနှင့်နန်း
တော် ဘဏ္ဍာ အလုံး စုံကို၎င်း၊ အာမခံသော သူ
အချို့တို့ကို၎င်းယူ၍ရှမာရိမြို့သို့ပြန်သွား၏။
၂၅ ဣသရေလရှင်ဘုရင်ယောခတ်သားယေဟော
ရှသေသောနောက်၊ ယုဒရှင်ဘုရင် ယောရှသား
အာမဇိသည် တဆယ် ငါးနှစ်ပတ်လုံး ရှင်သေး
၂၆ ၏။- အာမဇိပြုမူသောအမှုအရာကြွင်းသမျှအစ
အဆုံးတို့သည်၊ ယုဒရာဇဝင်နှင့် ဣသရေလရာ
၂၇ ဇဝင်၌ရေး၍ ထားလျက်ရှိ၏။- အာမဇိသည်ထာ
ဝရ ဘုရား နောက် တော်သို့ လိုက် ရာမှ လွဲသွား
သောနောက်၊သူ၏တဖက်၊ယေရုရှလင်မြို့၌သင်း
ခွဲကြ၍၊ သူသည် လာခိရှ မြို့သို့ပြေးသည် တွင်၊
၂၈ ထိုမြို့သို့ စေလွှတ်၍ သတ်စေပြီးမှ- မြင်းပေါ်၌
တင်လျက်၊ ယေရုရှလင် မြို့သို့ ဆောင်ခဲ့၍၊ ဘိုး
ဘေးတို့နှင့်အတူဒါဝိဒ်မြို့၌သင်းဂြိုဟ်ကြ၏။

၂၆

၁ ယုဒပြည်သူပြည်သားအပေါင်းတို့သည်၊ အ
သက်ဆယ်ခြောက်နှစ်ရှိသော သားတော်ဩဇိ
ကိုယူ၍၊ ခမည်းတော်အာမဇိအရာ၌နန်းထင်
၂ ကြ၏။- ထိုမင်းသည် ခမည်း တော် သေသော
နောက်၊ ဧလုတ်မြို့ကိုပြုစု၍ ယုဒနိုင်ငံထဲသို့ သွင်း
၃ ပြန်၏။-ဩဇိသည်အသက်ဆယ်ခြောက်နှစ်
ရှိသော်၊ နန်း ထိုင်၍ယေရုရှလင် မြို့၌ ငါး ဆယ်
နှစ်နှစ်စိုးစံလေ၏။ မယ်တော်ကား၊ယေရုရှလင်
၄ မြို့သူ ယေခေါလိ အမည်ရှိ၏။- ထို မင်း သည်
ခမည်း တော် အာမဇိပြုသမျှ အတိုင်း၊ ထာဝရ
ဘုရားရှေ့ တော်၌ တရားသော အမှုကို ပြု ၏-
၅ ဘုရားသခင်၏ရူပါရုံကိုနားလည်သော
ဇာခရိ ထက် ထက် ၌၊ ဩဇိ မင်း သည် ဘုရား
သခင်ကိုဆည်းကပ်၏။ ထာဝရဘုရားကိုဆည်း
ကပ်သော ကာလ ပတ်လုံး၊ ဘုရား သခင် သည်
အကြံ ထမြောက် ရသော အခွင့်ကို ပေးတော်မူ

၆ ၏။-ထိုမင်းသည် စစ်ချီ၍ ဖိလိတ္တိလူတို့ကိုတိုက်သ
ဖြင့်၊ ဂါသမြို့ရိုး၊ ယာဗနေမြို့ရိုး၊ အာဇုတ်မြို့ရိုးတို့
ကို ဖြိုဖျက်ပြီးမှ၊ အာဇုတ်မြို့ပတ်ထည်၊ ဖိလိတ္တိ
ပြည်အရပ်ရပ်၌ မြို့သစ်တို့ကို တည်ထောင်ထေ
၇ ၏။-ဘုရားသခင်သည် ဖိလိတ္တိလူ၊ ဂုရဗာလမြို့
နေသောအာရပ်လူ၊ မဟုနိမ်လူတို့ တစ်ဖက်၌
ဆုကိုမစတော်မူ၏။-အမ္မုန်အမျိုးသားတို့သည်
လည်း၊ ဩဇိမင်းအားထက်ဆောင်ပဏ္ဏာတို့ကို
ဆက်ကြ၏။သူသည်အလွန်ကိုယ်ကိုခိုင်ခံ့စေသ
ဖြင့်၊ သိတင်းတော်သည် အဲဂုတ္တုပြည် ထိုင်
အောင်ကျော်စောလေ၏။
၉ ဩဇိမင်းသည်ယေရုရှလင်မြို့ထောင့်တံခါး၊
ချိုင့်တံခါး၊ မြို့ရိုးကွေ့တံခါး၌ ရဲတိုက်တို့ကို
၁၀ တည်၍ခိုင်ခံ့စေ၏။- တော၌လည်း ရဲတိုက်တို့
ကိုတည်၏။ ရေတွင်းများကိုလည်းတူး၏။ ချိုင့်
ဝှမ်းရာအရပ်နှင့် မြေညီရာအရပ်၌၊ များစွာ
သောသိုးနွားတို့ကို ထည်းဖူး၍ တောင်အရပ်၊
မြေကောင်းသောအရပ်၌ထယ်လုပ်သောသူနှင့်
စပျစ်ဥယည်ပြုစုသောသူတို့ကိုထည်းစေစား၏။
ထိုသို့သောအမှုများကိုဝါသနာရှိ၏။
၁၁ ဩဇိမင်း၌ တပ်စာရေးယေယေလနှင့် တပ်
ချုပ်မာသေယတို့သည်စာရင်းယူသည်အတိုင်း၊
ရှင်ဘုရင်၏ မိုလ်မင်းဟာနနိသည် စီရင်၍၊ အ
သီးအသီးတပ်ဖွဲ့သော စစ်သူရဲ မိုလ်ခြေများရှိ
၁၂ ကြ၏။- ထိုသို့ခွန်အားကြီးသောသူရဲအဆွေအ
မျိုးအလိုက်၊ အကြီးအကဲလုပ်သောသူပေါင်း
၁၃ ကား၊ နှစ်ထောင်ခြောက်ရာတည်း။- ထိုသို့အ
ကြီးအကဲလုပ်သောသူ၊ရန်သူတဖက်၌ရှင်ဘုရင်
ကိုထောက်မခြင်းငှါ၊ ကြီးသောခွန်အားနှင့်စစ်
ထိုတ်သောသူရဲ ပေါင်းကား၊ သုံးသိန်းခုနှစ်
၁၄ ထောင်ငါးရာတည်း။- ဩဇိမင်းသည် ထည်း၊
မိုလ်ခြေအပေါင်းတို့အမှုပိုင်းလှံ၊ လှံ၊ သံခ
မောက်လုံး၊ သံချပ်၊ လေး၊ ကျောက်နှင့်ပြစ်စရာ
၁၅ ထောက်တွဲတို့ကိုပြင်ဆင်ထေ၏။- လိမ္မာသော
သူတို့သည် ညာဏ်ရှာ၍၊ လုပ်သောယန္တရား
စက်တို့ကိုလည်း၊ ယေရုရှလင်မြို့ရဲတိုက်၊ မြို့ပြ
အိုးအပေါ်က မြှားနှင့် ကျောက်ကြီးကို ပြစ်စရာ
အိုပြင်ဆင်ထေ၏။ ထိုသို့တန်ခိုးကြီးအောင်အ
ထူးသဖြင့် မစခြင်းကို ခံရသည်ဖြစ်၍၊ သိတင်း
တော်သည်အနှံ့အပြားကျော်စော၏
၁၆ ဩဇိမင်းသည်တန်ခိုးကြီးသောအခါ၊ ကိုယ်
အကျိုးနည်းအောင်၊ ထောင်လွှားသောစိတ်ထ
သဖြင့်၊ မိမိဘုရားသခင် ထာဝရဘုရားကိုပြစ်
မှား၍၊ နံ့သာပေါင်းကိုမီးရှို့ရာယဇ်ပလ္လင်ပေါ်
မှာနံ့သာပေါင်းကိုမီးရှို့ခြင်းငှါ၊ ထာဝရဘုရား၏
၁၇ ဗိမာန်တော်ထဲသို့ ဝင်လေ၏။- ယဇ်ပုရော
ဟိတ်အာဇရိသည်ရဲရင့်ခြင်းသတ္တိရှိသောထာ
ဝရဘုရား၏ အမှုတော်ထမ်း ယဇ်ပုရောဟိတ်
ရှစ်ကျိပ်တို့နှင့်တကွ၊ ရှင်ဘုရင်ဩဇိနောက်
၁၈ တော်သို့လိုက်၍-ဆီးတားသဖြင့်၊ဘိုဩဇိမင်း
ကိုယ်တော်သည် ထာဝရဘုရားအား နံ့သာ
ပေါင်းကိုမီးရှို့ခြင်းအမှုနှင့် မဆိုင်ပါ။ နံ့သာ
ပေါင်းကိုမီးရှို့စေခြင်းငှါ၊ ခန့်ထားသောအာရုန်
သား ယဇ်ပုရောဟိတ်တို့သာ ထိုအမှုနှင့် ဆိုင်
ကြပါ၏။ သန့်ရှင်းရာဌာနထဲက ထွက်သွား
လော့။ကိုယ်တော်သည် ပြစ်မှားပြီ။ ထာဝရ
အရှင်ဘုရားသခင်ရှေ့တော်၌ ကိုယ်တော်အသ
၁၉ ရေပျက်လိမ့်မည်ဟုဆိုကြလျှင်- ဩဇိမင်းသည်
ဒေါသစိတ်ရှိ၍၊ နံ့သာပေါင်းကိုမီးရှို့ခြင်းငှါ၊
ထင်ပန်းကိုကိုင်လျက်၊ ယဇ်ပုရောဟိတ်တို့ကို
အမျက်ထွက်လျှင်၊ ဗိမာန်တော်တွင်နံ့သာ
ပေါင်းကိုမီးရှို့ရာ ယဇ်ပလ္လင်၏အနား၊ ယဇ်ပု
ရောဟိတ်တို့ရှေ့မှာ၊ နူနာသည် ရှင်ဘုရင်နဖူး၌
၂၀ ပေါ်လေ၏။- ယဇ်ပုရောဟိတ်မင်းနှင့် ယဇ်ပု
ရောဟိတ်အပေါင်းတို့သည် ကြည့်ရှု၍၊ နဖူး
တော်၌နူနာစွဲသည်ကိုမြင်လျှင်၊ရှင်ဘုရင်ကိုပြင်
သို့နှင်ထုတ်ကြ၏။ ရှင်ဘုရင်ကိုယ်တိုင်လည်း၊
ထာဝရဘုရားဒဏ်ခတ်တော်မူသောကြောင့်၊
၂၁ အလျှင်အမြန်ထွက်လေ၏။-ထိုသို့ဩဇိမင်းကြီး
သည် သေသည်တိုင်အောင်နူနာစွဲ၍၊ ခြားနား
သောနန်း၌နေရ၏။ဗိမာန်တော်သို့ဝင်သောအ
ခွင့်ကိုမရ။ သားတော်ယောသံသည် နန်းတော်
၂၂ ကိုအုပ်စိုး၍ နိုင်ငံတော်မှုကို စီရင်ရ၏။- ဩဇိရှု
မှုသောအမှုအရာကြွင်းလေသမျှ အစအဆုံးတို့
ကို၊ အာမုတ်သား ပရောဖက်ဟေရှာယ သည်
၂၃ ရေးထားလေ၏။- ဩဇိသည် ဘိုးဘေးတို့ နှင့်
အိပ်ပျော်၍၊ သူတို့နှင့်အတူသင်းဂြိုဟ်ခြင်းကိုခံ
ရသော်လည်း၊ လူနူဖြစ်သောကြောင့်၊ ရှင်ဘုရင်
တို့ သင်းချိုင်းနှင့် ဆိုင်သော မြေအကွက်၌သာ
သင်းဂြိုဟ်ကြ၏။ သားတော်ယောသံ သည်
ခမည်းတော်အရာ၌နန်းထိုင်၏။

၂၇

၁ ယောသံသည် အသက်နှစ်ဆယ်ငါးနှစ်ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ တဆယ်

ခြောက်နှစ်စိုးစံလေ၏။ မယ်တော်ကား၊ ဇာဒုတ်
၂ ထွေးယေရုရှာအမည်ရှိ၏။— ထိုမင်းသည်ခမည်း
တော်ဩဇိကျင့်သမျှအတိုင်း၊ ထာဝရဘုရားရှေ့
တော်၌တရားသောအမှုကိုပြု၏။ သို့ရာတွင်၊ ထာ
ဝရဘုရား၏ ဗိမာန်တော်ထဲသို့မဝင်။ ပြည်သူ
ပြည်သားတို့သည် မတရားသဖြင့်ပြုကြသေး၏။—
၃ ထိုမင်းသည် ဗိမာန်တော် အထက် တံခါးကို
လုပ်၍၊ ဩဖေလ မြို့ရိုးကို အလွန် ခိုင်ခံ့စေ၏။—
၄ ယုဒတောင်ရိုးပေါ်မှာ မြို့များကိုငှင်၊ တော၌ ရဲ
တိုက် များ နှင့် ပြအိုး များ ကို ငှင် တည် ထောင်
၅ ၏။— အမ္မုန်ရှင်ဘုရင်ကိုလည်း၊ စစ်တိုက်၍
နိုင်သဖြင့်၊ နိုင်သောနှစ်တွင်အမ္မုန်သားတို့သည်
ငွေ အခွက် တထောင်၊ ဂျုံကောရတသောင်း၊ မု
ယောတသောင်းကို ပေးရကြ၏။ ဒုတိယနှစ်နှင့်
၆ တတိယ နှစ်တွင် ထိုအတူ ပေးရ ကြ၏။— ထိုသို့
ယောသံသည် မိမိ ဘုရား သခင် ထာဝရ ဘုရား
ရှေ့ တော်၌၊ မိမိ အကျင့် ထုံးကို ဖြောင့် စေသော
၇ ကြောင့်၊ တန်ခိုးတိုးပွားသတည်း။— ယောသံပြု
သောအမှုအရာကြွင်းလေသမျှ၊ စစ်တိုက်ခြင်း၊
အကျင့် ကျင့်ခြင်း အမှုအရာ အလုံးစုံ တို့သည်၊
ဣသရေလရာဇဝင်နှင့် ယုဒရာဇဝင်၌ရေးထား
၉ လျက်ရှိ၏။— ယောသံသည် ဘိုးဘေးတို့နှင့်အိပ်
ပျော်၍၊ ဒါဝိဒ်မြို့၌ သင်းဂြိုဟ်ခြင်းကို ခံ လေ၏။
သားတော် အာခတ် သည် ခမည်းတော် အရာ၌
နန်းထိုင်၏။

## ၂၈

၁ အာခတ်သည် အသက်နှစ်ဆယ်ရှိသော်၊ နန်း
ထိုင်၍ ယေရုရှလင်မြို့၌ တဆယ်ခြောက် နှစ် စိုး
စံလေ၏။ ထိုမင်းသည် အဘ ဒါဝိဒ်ကဲ့သို့ မကျင့်၊
ထာဝရ ဘုရား ရှေ့တော် ၌ တရားသော အမှု ကို
၂ မပြု။— ဣသရေလရှင်ဘုရင်တို့ လိုက်သောလမ်း
သို့လိုက်၍၊ ဗာလဘုရားတို့ အရုပ်တုဆင်းတု
၃ များကိုသွန်းလေ၏။— ထာဝရဘုရားသည်ဣသ
ရေလအမျိုးသားရှေ့မှနှင်ထုတ်တော်မူသော၊ တ
ပါးအမျိုးသား တို့၏ ရွံရှာဖွယ် ထုံးစံ အတိုင်း၊
ဟိန္နုံ သား ချိုင့်၌ နံ့သာ ပေါင်းကို မီး ရှို့၍၊ မိမိ
၄ သား တို့ကို လည်း မီးဖြင့် ပူဇော် ၏။— မြင့်သော
အရပ်၊ တောင်ပေါ်၊ သစ်ပင် အောက်တို့၌ ယဇ်
၅ ပူဇော်၍၊ နံ့သာ ပေါင်း ကို မီး ရှို့ တတ် ၏။— ထို
ကြောင့်၊ သူ၏ဘုရားသခင်ထာဝရဘုရားသည်၊
သူကိုရှုရိရှင်ဘုရင်လက်သို့ အပ်တော်မူသဖြင့်၊
ရှုရိလူတို့သည် လုပ်ကြံလျက်၊ များစွာသောသူ
တို့ကိုဖမ်းဆီး၍၊ ဒမာသက်မြို့သို့သိမ်းသွားကြ
၆ ၏။— တဖန် ဣသရေလ ရှင်ဘုရင် လက်သို့ အပ်
တော်မူသဖြင့်၊ ထိုရှင်ဘုရင်ရေမလိသားပေကာ
သည်ကြမ်းတမ်းစွာလုပ်ကြံ၍၊ ရဲရင့်သောယုဒ
အမျိုးသား တသိန်းနှစ်သောင်းကို တနေ့ချင်း
တွင်သတ်လေ၏။ အကြောင်းမူကား၊ သူတို့သည်
ဘိုးဘေးတို့၏ဘုရားသခင် ထာဝရဘုရားကိုစွန့်
၇ ကြသတည်း။— ခွန်အားကြီးသော ဧဖရိမ်သား
ဇိခရိသည်၊ ရှင်ဘုရင်သား မာသေယ၊ နန်းတော်
အုပ်အာဇရိကံ၊ ရှင်ဘုရင်နောက်ဒုတိယမင်းဧ
၈ လကာနကိုသတ်၏။— ဣသရေလ အမျိုးသားတို့
သည်လည်း၊ မိမိတို့နှင့်ပေါက်ဖော် တော်သော
ယောက်ျား၊ မိန်းမ၊ သား၊ သမီးပေါင်း နှစ်သိန်းကို
ဖမ်းဆီးသိမ်းသွားကြ၏။ များစွာသောဥစ္စာကို
လည်း၊ လုယူ၍ရှမာရိမြို့သို့ ဆောင်သွားကြ၏။
၉ ထိုအရပ်၌အမည်ရှိသောထာဝရဘုရား၏ပရော
ဖက်တပါးရှိ၍၊ ရှမာရိမြို့သို့ ပြန်လာသော ထစ်
ကိုဆီးကြိုလျက် သိုဘေးတို့၏ ဘုရားသခင်ထာ
ဝရဘုရားသည်ယုဒပြည်ကိုအမျက်တော်ထွက်
သောကြောင့်၊ သင်တို့လက်၌ အပ်တော် မူသ
ဖြင့်၊ သင်တို့သည်မိုဃ်းကောင်းကင်သို့ထိသော
ဒေါသအမျက်နှင့်သူတို့ကိုသတ်ကြပြီတကား။—
၁၀ ယခုတွင် လည်း၊ ယုဒ ပြည်သူ၊ ယေရုရှလင် မြို့
သား ယောက်ျား မိန်းမတို့ကို အစေခံ ကျွန်လုပ်၍၊
နှိပ် စက် မည် အကြံ ရှိကြသည် တကား။ သို့ဖြစ်
လျှင်၊ သင်တို့၏ ဘုရား သခင် ထာဝရဘုရား ကို
၁၁ ပြစ် မှား ရာ သို့ ရောက် သည် မဟုတ် လော။— ငါ့
စကားကိုနားထောင်ကြလော့။ သင်တို့သည်ယခု
ဖမ်းဆီး၍၊ သိမ်းယူခဲ့သောသင်တို့၏ညီအစ်ကို
များကို လွှတ် လိုက် ကြလော့။ သို့မဟုတ်၊ ထာ
ဝရဘုရား၏ ပြင်းစွာသော အမျက်တော် သည်
သင်တို့အပေါ်မှာသက်ရောက်လိမ့်မည်ဟုသတိ
၁၂ ပေး၏။— ထိုအခါ ဧဖရိမ် အမျိုး သား အကြီးအ
ကဲ၊ ယောဟနန်သား အာဇရိ၊ မေရှိလေမုတ်
သား ဗေရခိ၊ ရှလ္လုံသား ယေဇကိ၊ ဟာဒလဲ
သားအာမသာတို့သည် စစ်တိုက်ရာမှလာသော
၁၃ သူတို့ကိုဆီးတား၍— သင်တို့သိမ်းယူခဲ့သောသူ
တို့ကို ဤမြို့ထဲသို့ မသွင်းရ။ ငါတို့သည် ထာဝရ
ဘုရားကိုပြစ်မှားပြီ။ အပြစ်ရှင်း အပေါ်မှာ ထပ်
၍ပြစ်မှား စေခြင်းငှာ သင်တို့ကြံစည်ကြသည်
တကား။ ယခုတွင် ငါတို့အပြစ် ကြီးလှ၏။ ဣသ
ရေလအမျိုး၌ ပြင်းစွာအမျက်တော်ထွက်လျက်

၁၄ ရှိသည်ဟု ဆိုသောကြောင့်- စစ်သူရဲ တို့သည်
သိမ်းယူခဲ့သော လူများနှင့်၊ လုယူခဲ့သော ဥစ္စာ
များကိုမင်းတို့ရှေ့ ပရိသတ်တို့ရှေ့မှာထားကြ
၁၅ ၏။- အထက်ဆိုခဲ့ပြီးသောသူတို့သည်ထလျက်၊
သိမ်းယူခဲ့သော သူတို့ကိုခေါ်၍၊ အဝတ်မရှိ
သောသူတို့ကို ထက်ရဥစ္စာဖြင့် ဝတ်ဆင်စေကြ
၏၊ ခြေနင်းကိုစီးစေကြ၏၊ စားသောက်စရာဘို့
ပေးကြ၏၊ ဆီနှင့်လိမ်းစေကြ၏၊ အားမရှိသော
သူအပေါင်းတို့ကိုမြည်းပေါ်မှာတင်၍၊ သူတို့ပေါက်
ဖော်ရှိရာ ယေရိခေါမြို့ တည်းဟူသော စွန်ပလွံ
ပင်မြို့သို့ပို့ပြီးမှ၊ ရှမာရိမြို့သို့ပြန်သွားကြ၏။
၁၆ ထိုအခါ အာရှုရိရှင်ဘုရင်သာ၍ ကူမစေခြင်း
ငှါ၊ အာခတ်မင်းကြီးသည်သံတမန်ကိုစေလွှတ်
၁၇ လေ၏။- အကြောင်းမူကား၊ ဧဒုံလူတို့သည်လာ
ပြန်သဖြင့်၊ ယုဒပြည်ကိုလုပ်ကြံ၍၊ လူများကို
၁၈ ဖမ်းဆီး၍ သိမ်းသွားကြပြီ။- ဖိလိတ္တိလူတို့သည်
လည်း၊ နိုင်ငံအောက်ပိုင်းနှင့် ယုဒပြည်တောင်
ပိုင်း၌ ရှိသော မြို့တို့ကိုတိုက်၍၊ ဗက်ရှေမက်မြို့၊
အာဇလုန်မြို့၊ ဂေဒရုတ်မြို့၊ ရှောခေါမြို့ရွာ၊ တိမ
နာမြို့ရွာ၊ ဂိမဇောမြို့ရွာများကိုယူ၍ နေရာချကြ
၁၉ ၏။- ယုဒရှင်ဘုရင် အာခတ်ကြောင့် ထာဝရ
ဘုရားသည်ယုဒပြည်ကိုအသွန်နှိမ့်ချ၏၊ ထိုမင်း
သည် ယုဒပြည်၏ အဝတ်တန်ဆာကို ချွတ်၍၊
ထာဝရ ဘုရားကို ကြမ်းတမ်းစွာ ပြစ်မှား၏။-
၂၀ အာရှုရိရှင်ဘုရင်တိဂလတ်ပိလေသာလာသော်
၂၁ လည်း၊ အားကိုမပေး၊ သာ၍ ထင်းရဲစေ၏။- အ
ကြောင်းမူကား၊ အာခတ် သည် ဗိတ် မှန် တော်
အထွာနှင့်နန်းတော်အကျာမှစ၍၊ မှူးမတ်အိမ်
တို့၌ရှိသောဥစ္စာများကိုခွဲခြားလျှင်၊ အာရှုရိရှင်
ဘုရင် အားပေးသော်လည်း၊ ထိုရှင်ဘုရင်သည်
၂၂ ကျေးဇူးပြုခြင်း၌မပြု။- အာခတ်မင်းကြီးသည် ထင်း
ရဲ ခွဲခံရသောအခါ၊ ထာဝရဘုရားကို သာ၍
၂၃ ပြစ်မှား၏။- ငါကို ဒါဏ်ပေးသော ဒမာသက်မြို့၏
ဘုရားတို့ကိုငါဆည်းကပ်မည်ဟု၍၊ ရှုရိရှင်
ဘုရင် ကိုးကွယ်သော ဘုရားတို့သည် ကျေးဇူး
ပြုတတ်သောကြောင့်၊ ငါ၌လည်းကျေးဇူးပြုစေ
ခြင်းငှါ၊ ထိုဘုရားတို့အား ယဇ်ပူဇော်မည်ဟု
၍ဆိုသော်လည်း၊ ထိုဘုရားတို့သည်အာခတ်
မင်းနှင့် ဣသရေလ အမျိုး အကျိုးနည်းစရာအ
၂၄ ကြောင်းဖြစ်သတည်း။- တဖန် အာခတ် သည်
ဗိတ်မှန်တော် တန်ဆာတို့ကို စုထား၍ အပိုင်း
ပိုင်းချိုးဖြတ်၏၊ ဗိတ်မှန်တော်တံခါးတို့ကိုလည်း
ပိတ်ထား၏၊ ယေရုရှလင်မြို့ ထောင့်များ၌ယဇ်
၂၅ ပလ္လင် တို့ကို တည်၏။- အခြား တပါး သော
ဘုရားတို့အားနံ့သာပေါင်းကို မီးရှို့စရာအဘို့ ယု
ဒမြို့ အသီးအသီးတို့၌ မြင့်သော အရပ် တို့ကို
တည်၍ ဘိုး ဘေး တို့၏ ဘုရား ထာဝရ
ဘုရား၏အမျက်တော်ကို နှိုးဆော်လေ၏။
၂၆ အာခတ် ကျင့်ကြံ ပြုမူ သော အမှုအရာ ကြွင်း
သောအမှုအလုံးစုံတို့သည် ယုဒရာဇဝင်နှင့်ဣ
၂၇ သရေလ ရာဇဝင်၌ ရေးထားလျက် ရှိ၏။- အာ
ခတ်သည်ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊ ယေရုရှ
လင်မြို့၌ သင်းဂြိုဟ်ခြင်းကိုခံရသော်လည်း၊ ဣ
သရေလရှင်ဘုရင်တို့ သင်းချိုင်း၌ မသင်းဂြိုဟ်
ကြ၊ သားတော် ဟေဇကိသည်ခမည်းတော်အ
ရာ၌နန်းထိုင်၏။

၂၉

၁ ဟေဇကိ သည် အသက် နှစ် ဆယ် ငါး နှစ်ရှိ
သော်၊ နန်းထိုင်၍ယေရုရှလင်မြို့၌ နှစ်ဆယ်ကိုး
နှစ်စိုးစံလေ၏၊ မယ်တော်ကား၊ ဇာခရိသမီး အာ
၂ ဘိ အမည်ရှိ၏။- ထိုမင်းသည် အဘဒါဝိဒ် ကျင့်
သမျှအတိုင်း ထာဝရဘုရား ရှေ့တော်၌ တရား
၃ သောအမှုကိုပြု၏။- နန်းစံပဌမနှစ်၊ ပဌမလ၌
ဗိတ်မှန်တော် တံခါးတို့ကို ဖွင့်၍ ပြုပြင် တော်မူ
၄ ၏။- ယဇ်ပုရောဟိတ်လေဝိသားတို့ကိုခေါ်၍ အ
၅ ရှေ့လမ်းမှာ စုဝေးစေလျက်- ဆိုလေဝိသားတို့၊
နားထောင်ကြလော့၊ ကိုယ်ကိုရှင်း၊ ဘိုးဘေးတို့
၏ ဘုရားသခင် ထာဝရဘုရား၏ အိမ်တော်ကို
ရှင်းသန့်စေ၍၊ သန့်ရှင်းရာဌာနထဲက အညစ်အကြေး
၆ ကိုထုတ်ပယ်ရှင်းကြလော့။- ငါတို့ အဘ
များသည်ပြစ်မှား၍၊ ငါတို့၏ဘုရားသခင် ထာ
ဝရဘုရားရှေ့တော်၌ ဒုစရိုက်ကိုပြုကြပြီ၊ ထာ
ဝရဘုရားကိုစွန့်၍၊ ကျိန်းဝပ်တော်မူရာအရပ်
မှ မျက်နှာလွှဲလျက် ကျောခိုင်းကြပြီ တကား။-
၇ ဗိတ်မှန်တော်ဦးတံခါးတို့ကိုပိတ်လျက်၊ မီးခွက်
တို့ကိုသတ်လျက်၊ သန့်ရှင်းရာဌာန၌ ဣသရေလ
အမျိုး၏ ဘုရားသခင် အား နံ့သာပေါင်း ကို မီး
၈ မရှို့၊ မီးရှို့ရာယဇ်ကိုမပူဇော်ဘဲ နေကြပြီ။- ထို
ကြောင့်၊ ထာဝရဘုရားသည် ယုဒပြည် ယေရုရှ
လင်မြို့ကို အမျက် တော် ထွက်၍၊ သင်တို့မြင်
သည် အတိုင်း ထင်းရဲ ခံခြင်း၊ မိန်းမော တွေဝေ
ခြင်း၊ ကဲ့ရဲ့သံကို ကြားခြင်းအမှု၌ အပ်တော်မူ
၉ ပြီ။- သို့ဖြစ်၍၊ ငါတို့အဘများသည်ထားဖြင့်လဲ
သေကြပြီ၊ သားသမီး မယားတို့သည်သိမ်းသွား

၁၀ ခြင်းကိုခံရကြပြီ။–ထိုမှုကား၊ပြင်းစွာသောအ
မျက်တော်သည်ငါတို့မှလွှဲသွားမည်အကြောင်း။
ဣသရေလအမျိုး၏ဘုရားသခင်ထာဝရဘုရား
၁၁ နှင့်ပဋိညာဉ် ဖွဲ့မည်ဟု ငါအကြံရှိ၏။– သားတို့၊မဝင့်ရဲကြနှင့်။ ထာဝရဘုရားရှေ့တော်၌ရပ်
၍ဝတ်ပြုခြင်း၊ အမှုတော်ကို စောင့်ခြင်း၊ နံ့သာ
ပေါင်းကိုမီးရှို့ခြင်းအမှုကို ပြုစေခြင်းငှါ၊ သင်တို့
၁၂ ကိုရွေးထားတော်မူပြီဟုမိန့်တော်မူလျှင်–လေဝိ
အမျိုး ကောဟတ် အနွယ် အာမသဲ သား မာ
ဟတ်၊ အာဇရိသား ယောလ၊ မေရာရိအနွယ်
အာဗဒိသားကိရှ၊ ယေဟလေလသား အာဇရိ၊
ဂေရရှုံ အနွယ် ဇိမ္မ သား ယောအာ၊ ယောအာ
၁၃ သားဧဒင်၊– ဧလိဇာဖန်အမျိုးသားရှိမရိနှင့်ယေ
ယေလ၊အာသပ်အမျိုးသားဇာခရိနှင့်မဿနိ၊–
၁၄ ဟေမန် အမျိုးသား ယေဟေလ နှင့် ရှိမိ၊ ယေဒု
သုန်အမျိုးသားရှေမာယနှင့်ဩဇေလတို့သည်–
၁၅ အမျိုးသားချင်းတို့ကိုခေါ်၍၊ ကိုယ်ကိုသန့်ရှင်း
စေပြီးမှ၊ထာဝရဘုရားအမိန့်တော်နှင့်အညီရှင်
ဘုရင်စီရင်သည်အတိုင်း၊ ဗိမာန်တော်ကိုသန့်
၁၆ ရှင်းစေခြင်းငှါလာကြ၏။– ယဇ်ပုရောဟိတ်တို့
သည်ဗိမာန်တော်ကို သန့်ရှင်းစေခြင်းငှါ၊ အ
တွင်းခန်းထဲသို့ဝင်၍၊တွေ့သမျှသောအမှိုက်ကို
ထာဝရဘုရား၏ ဗိမာန်တော်ဝင်းသို့ထုတ်ပြီးလျှင်၊လေဝိသားတို့သည်
၁၇ ကေဒြုန် ချောင်းသို့ ယူသွား ကြ၏။– ပဌမလ တ
ရက် နေ့တွင် သန့်ရှင်း စ ပြု၍၊ ရှစ် ရက် နေ့ တွင်
ဗိမာန်တော်ဦးသို့ ရောက်ကြ၏။ ထိုနောက်ရှစ်
ရက် ပတ်လုံး၊ ဗိမာန် တော်ကို သန့်ရှင်း စေ၍
ပဌမလ၊ တဆယ်ခြောက်ရက် နေ့တွင် ထက်စ
၁၈ ထပ်ကြ၏။–ထိုအခါဟေဇကိမင်းကြီးထံသို့ဝင်
၍၊ အကျွန်ုပ်တို့သည် ဗိမာန်တော် တဆောင်
လုံး၊ မီးရှို့ရာယဇ်ပလ္လင်နှင့်ဘန်ဆာရှိသမျှ၊ရှေ့
တော်မုန့်တင်သောစားပွဲနှင့်တန်ဆာရှိသမျှတို့
၁၉ ကိုသန့်ရှင်းစေပါပြီ။– ထိုမှတပါး၊အာခတ်မင်း
ကြီး ထက်ထက် အဓမ္မပြု၍ ပြစ်ထား သောတန်
ဆာရှိသမျှတို့ကို၊ အကျွန်ုပ်တို့သည် ပြင်ဆင်၍
သန့်ရှင်းစေသဖြင့်၊ထာဝရဘုရား၏ယဇ်ပလ္လင်
တော်ရှေ့မှာ ထင် ထား ပါပြီ ဟု လျှောက် ဆို
ကြ၏။

၂၀ ထိုအခါ ဟေဇကိ မင်းကြီးသည် စောစောထ
၍၊ မြို့သူကြီးတို့ကို စုဝေးစေပြီး လျှင်၊ ဗိမာန်
၂၁ တော်သို့ တက်သွား၏။– နန်းတော်အပြစ်၊ သန့်
ရှင်းရာ ဌာနတော်အပြစ်၊ ယုဒပြည် အပြစ်ဖြေ
ရာယဇ် ပူဇော်စရာဘို့ နွားခုနစ်ကောင်၊ သိုးခု
နစ်ကောင်၊ သိုးသငယ် ခုနစ်ကောင်၊ ဆိတ်ခုနစ်
ကောင်တို့ကို ဆောင်ခဲ့ကြ၏။ အာရုန်သားယဇ်
ပုရောဟိတ်တို့သည်၊ထာဝရဘုရား၏ယဇ်ပလ္လင်
ပေါ်မှာ ပူဇော် စေခြင်းငှါ၊ မိန့်တော် မူသည် အ
၂၂ တိုင်း– နွားတို့ကို သတ်၍ယဇ် ပုရောဟိတ် တို့
သည် အသွေးကိုခံလျက်၊ ယဇ် ပလ္လင်ပေါ်မှာ
ဖြန်းကြ၏။ သိုးတို့ကိုလည်းသတ်၍၊အသွေးကို
ယဇ် ပလ္လင်ပေါ်မှာ ဖြန်းကြ၏။ သိုးသငယ်တို့
ကိုလည်းသတ်၍အသွေးကိုယဇ်ပလ္လင်ပေါ်မှာ
၂၃ ဖြန်းကြ၏။– ဒ ပြစ်ဖြေရာ ယဇ်ပူဇော် စရာ ဆို
ဆိတ်တို့ကိုလည်း ရှင်ဘုရင်ရှေ့၊ ပရိသတ်ရှေ့
၂၄ သို့ထုတ်၍၊ မိမိတို့လက်ကို တင်ပြီးမှ– ယဇ်ပု
ရောဟိတ် တို့သည် သတ်၍၊ ဣသရေလ အမျိုး
သား အပေါင်း တို့၏ အပြစ် ကို ဖြေစေ ခြင်းငှါ၊
ယဇ်ပလ္လင်ပေါ်မှာ အသွေးအားဖြင့် အပြစ်ဖြေ
ခြင်း မင်္ဂလာကိုပြုကြ၏။ ထိုသို့မီးရှို့ရာ ယဇ်နှင့်၊
အပြစ်ဖြေရာယဇ်ကို ဣသရေလအမျိုးသား အ
ပေါင်း တို့ အ ဘို့ ပူ ဇော် မည် အ ကြောင်း၊ ရှင်
၂၅ ဘုရင်အမိန့်တော်ရှိပြီ။– ဒါဝိဒ်မင်းကြီးနှင့်သူ၏
ပရောဖက်ဂဒ်၊ ပရောဖက် နာသန်တို့စီရင်သည်
အတိုင်း ခွက်ကွင်း၊ စောင်း၊ တယော နှင့် တီး
မှုတ်သောလေဝိသားတို့ကို၊ ဗိမာန်တော်၌ခန့်
ထား တော် မူ၏။ ထိုသို့ ထာဝရ ဘုရားသည် ပ
၂၆ ရောဖက်တို့အားဖြင့်စီရင်တော်မူသတည်း။–ထို
ဖြစ်၍၊ လေဝိသားတို့သည် ဒါဝိဒ်စီရင်သော တူ
ရိယာ မျိုးများကိုင်၊ ယဇ်ပုရောဟိတ် တို့သည်
၂၇ တံပိုးများကိုကိုင်လျက်ရှိကြ၏။– ဟေဇကိ
သည် ယဇ် ပလ္လင် ပေါ်မှာ မီးရှို့ရာ ယဇ်ကိုပူ
ဇော် စေခြင်းငှါ၊ အမိန့် တော်ရှိ၍ မီးရှို့ရာယဇ်
ကို ပူဇော်စ ပြုသော အခါ၊ တံပိုးများနှင့် ဣသ
ရေလ ရှင် ဘုရင် ဒါဝိဒ် စီ ရင် သော တူ ရိ ယာ မျိုး
များကို တီး မှုတ်လျက်၊ ထာဝရ ဘုရား အား သီ
၂၈ ချင်းကိုဆိုစပြုကြ၏။– မီးရှို့ရာယဇ် ပူဇော်ခြင်း
အမှုလက်စ မသတ်မှီတိုင်အောင်၊ ပရိသတ်အ
ပေါင်း တို့ သည် ကိုး ကွယ် လျက်၊ သီချင်း ဆို
၂၉ လျက်၊တံပိုးမှုတ်လျက်နေကြ၏။– ထက်စထပ်
ပြီးမှ၊ ရှင်ဘုရင်နှင့်စည်းဝေးသောသူအပေါင်း
၃၀ တို့သည် ဦးညွတ်၍ ကိုးကွယ်ကြ၏။– ထိုနောက်
ဟေဇကိ မင်းကြီးနှင့် မှူးမတ်တို့သည် စီရင်၍၊
လေဝိသားတို့သည်ဒါဝိဒ်စကား၊ပရောဖက်အာ
သပ်စကားအားဖြင့်၊ ထာဝရဘုရားအားလော

မနာသိခြင်း၊ ထိုကြ၏၊ ရွှင်လန်းသော စိတ်နှင့်
ဆောမနာသိခြင်းကိုဆိုလျှက်၊ ဦးညွှတ်ရှိခိုး
၃၁ ကွယ်ကြ၏။- ထိုနောက်၊ ဟေဇကိက၊ သင်တို့
သည် ယခုထာဝရဘုရားအား၊ ကိုယ်ကို ပူဇော်
ကြပြီ၊ ဗိမာန်တော်သို့ချဉ်းကပ်၍၊ ယဇ်မျိုး
များနှင့် ကျေးဇူးတော် ဝန်ခံရာ ပူဇော်သက္ကာ
များကိုဆောင်ခဲ့ကြလော့ဟု၊ ပြန်၍ မိန့်တော်မူ
သည်အတိုင်း၊ စည်းဝေးသော သူတို့သည်ယဇ်
မျိုးများနှင့်ကျေးဇူးတော်ဝန်ခံရာပူဇော် သက္ကာ
များကို ဆောင်ခဲ့ကြ၏၊ စေတနာရှိသမျှ သောသူ
တို့သည် မီးရှို့ရာ ယဇ်တို့ကို ဆောင်ခဲ့ကြ၏။-
၃၂ စည်းဝေးသော သူတို့သည် ထာဝရဘုရားအား
မီးရှို့ရာယဇ်ပူဇော်ရာဘို့ဆောင်ခဲ့သော ယဇ်
ပေါင်းကား နွားခုနှစ်ဆယ်၊ သိုးတရာ၊ သိုးသ
၃၃ ငယ် နှစ်ရာ တည်း။- ပူဇော်သော ဥစ္စာပေါင်း
ကား၊ နွားခြောက်ရာ၊ သိုးသုံးထောင်တည်း။-
၃၄ ယဇ်ပရောဟိတ်တို့သည် နည်းသောကြောင့်၊
မီးရှို့ရာ ယဇ်ကောင်ရှိသမျှကို မသတ်နိုင်သည်
ဖြစ်၍၊ အခြားသော ယဇ်ပရောဟိတ် တို့သည်
ကိုယ်ကို မသန့်ရှင်းစေမှီ၊ အမှုတော် ထက်စမ
ထက်မှီ ယိုင်ဘောင်၊ ညီအစ်ကို လေဝိသား တို့
သည် ထောက်မကြ၏၊ ကိုယ်ကို သန့်ရှင်းစေ
ခြင်းငှါ၊ ယဇ်ပရောဟိတ်များထက် လေဝိသား
၃၅ တို့သည်သာ၍ စိတ်သဘောဖြောင့်ကြ၏။- မီးရှို့
ရာ ယဇ်များတို့နှင့်၊ မီးရှို့ရာယဇ် အသီးအသီး
တိုင်သော မိဿဟာယယဇ်ဆီဥ၊ သွန်းလောင်း
ရာ ပူဇော်သက္ကာ အများရှိကြ၏၊ ထိုသို့ ဗိမာန်
၃၆ တော် ဝတ်ပြုခြင်းကို စီရင်သတည်း။- ထိုအမှု
လျင်ပြန်သော်လည်း၊ ဘုရားသခင်သည်လူများ
ကိုပြင်ဆင်တော်မူသောကြောင့်၊ ဟေဇကိနှင့်လူ
အပေါင်းတို့သည် ဝမ်းမြောက်အားရကြ၏။

၃၀

၁ တဖန်ဧဖရိမ် အမျိုး၊ မနာရှေ အမျိုးနှင့် တကွ
ဣသရေလအမျိုး၊ ယုဒအမျိုးသားအပေါင်းတို့
သည် ယေရုရှလင်မြို့၊ ဗိမာန်တော်သို့လာ၍၊
ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရဘုရား
အား၊ ပသခါပွဲကိုခံစေခြင်းငှါ၊ ဟေဇကိသည်
၂ စာရေး၍ပေးလိုက်လေ၏။-ဒုတိယလတွင်၊ ပသ
ခါပွဲကိုခံခြင်းငှါ ရှင်ဘုရင်သည်တိုင်ပင်၍၊ မှူး
တော်မတ်တော်တို့နှင့်ယေရုရှလင်မြို့၌စည်းဝေး
၃ သောသူအပေါင်းတို့သည် စီရင်ကြပြီ။- ယဇ်ပ
ရောဟိတ်တို့သည်အမှုတော်ကိုဆောင်ရွက်နိုင်
မည်အကြောင်း၊ ကိုယ်ကို သန့်ရှင်းစွာ မပြုကြ
သေး၊ ပြည်သူပြည်သားတို့သည် ယေရုရှလင်
မြို့၌ မစည်းဝေးသေးသောကြောင့်၊ လွန်ခဲ့သောလ
၄ တွင်ထိုပွဲကိုမခံနိုင်ကြ။- ရှင်ဘုရင်နှင့်စည်းဝေး
သောသူ အပေါင်းတို့သည် ထိုအမှုကို နှစ်သက်
သောကြောင့်ငှင်၊ ကျမ်းစာ၌လာသည်အတိုင်း၊
ကြာမြင့်စွာသောကာလပတ်လုံး၊ ပသခါပွဲကိုမ
၅ ခံသောကြောင့်ငှင်-အရပ်ရပ်တို့ကလာ၍ဣသ
ရေလအမျိုး၏ဘုရားသခင်ထာဝရဘုရားအား၊
ယေရုရှလင်မြို့၌ ပသခါပွဲကို ခံစေခြင်းငှါ၊ ဣသ
ရေလပြည် တရှောက်လုံး၊ ဗေရရှေဘမြို့မှ ဒန်
မြို့တိုင်အောင်၊ ကြော်ညာစေမည်အကြောင်း၊
၆ အမိန့်တော်နှင့်စီရင်ကြ၏။-ရှင်ဘုရင်နှင့်မှူးမတ်
တို့ပေးလိုက်သောစာကိုစာပို့လုလင်တို့သည်ယူ
၍၊ အမိန့်တော်အတိုင်း ဣသရေလပြည်နှင့်ယုဒ
ပြည် တရှောက်လုံးသို့ပြေးကြ၏၊ စာ၌ပါသော
စကားဟူမူကား၊ အိုဣသရေလ အမျိုးသားတို့၊
အာဗြဟံ၊ ဣဇာက်၊ ယာကုပ်တို့၏ ဘုရားသခင်
ထာဝရ ဘုရား ထံတော် သို့ ပြန်လာ ကြ လော့၊
အာရှုရိရှင်ဘုရင်တို့လက်မှလွတ်၍၊ ကျန် ကြွင်း
သေးသော သူတို့ရှိရာသို့ ပြန်လာတော် မူမည်။-
၇ ဘိုးဘေးတို့ပါဘုရားသခင်ထာဝရဘုရားကိုပြစ်
မှားသော သင်တို့၏ အဘများ၊ ညီအစ်ကို များကဲ့
သို့မပြုကြနှင့်၊ ပြစ်မှားသောထိုသူတို့ကို သင်တို့
မြင်သည် တကိုင်း၊ သုတ်သင်ပယ်ရှင်း ခြင်းသို့
၈ အပ်တော်မူပြီ။- သင်တို့ အဘ များကဲ့သို့ မိုင်မာ
သောသဘောမရှိကြနှင့်၊ထာဝရဘုရား၌ကိုယ်
ကိုအပ်နှံကြလော့၊ အစဉ်သန့်ရှင်းစေတော်မူ
သော သန့်ရှင်းရာ ဌာနတော်သို့ လာကြလော့၊
ပြင်း ရှသော အမျက်တော်သည် သင်တို့မှလွှဲ
သွားမည် အကြောင်း၊ သင်တို့၏ ဘုရား သခင်
ထာဝရဘုရား၏ အမှုတော်ကိုစောင့်ကြလော့။-
၉ သင်တို့သည်ထာဝရဘုရားထံတော်သို့ပြန်လာ
လျှင်၊သင်တို့၏ညီအစ်ကိုသားသမီးတို့သည်သိမ်း
သွားသော သူတို့ထံမှာ၊ ကရုဏာ စိတ်နှင့်တွေ့
ကြ၍၊ ဤပြည်သို့ တဖန် ပြန်လာ ကြလိမ့်မည်၊
သင်တို့၏ဘုရားသခင်ထာဝရဘုရားသည်ကျေး
ဇူး ပြုချင်သော သဘော၊ သနား တတ်သော သ
ဘောရှိသောကြောင့်၊ သင်တို့သည် အထံတော်
သို့ ပြန်လာလျှင်၊ မျက်နှာတော်ကို သင်တို့မှလွှဲ
၁၀ တော်မမူဟုစာ၌ပါသတည်း။- စာပို့လုလင်တို့
သည်ဧဖရိမ်ခရိုင်၊ မနာရှေခရိုင်တရှောက်လုံး

ဇာဗုလုန် ခရိုင်တိုင်အောင် တမြို့မှတမြို့ သို့ပြေး
ကြ၏။ ပြည်သားတို့သည် ပြက်ရယ်ပြု၍ ကဲ့ရဲ့
၁၁ ကြ၏။- သို့ရာတွင် အာရှာ ခရိုင် သား၊ မနာရှေ
ခရိုင်သား၊ ဇာဗုလုန် ခရိုင်သား အချို့တို့သည်
ကိုယ်ကိုနှိမ့်ချ၍ ယေရုရှလင် မြို့သို့ လာကြ၏။-
၁၂ ယုဒပြည် သားတို့သည် ထာဝရ ဘုရား အမိန့်
တော် အတိုင်း၊ ရှင် ဘုရင် နှင့် မှူး မတ်တို့ စီရင်
သည်အတိုင်း၊ တညီတညွတ်တည်းပြုချင်သော
စေတနာ စိတ် ကို၊ ဘုရား သခင် တန်ခိုး တော်
ကြောင့်ရကြ၏။
၁၃ ဒုတိယလတွင်အဇုမပွဲကိုခံလိုသောငှါ၊ များ
စွာသောလူတို့သည် ယေရုရှလင်မြို့၌ စည်းဝေး
ကြ၍၊ အလွန်ကြီးသော ပရိသတ်ဖြစ်လေ၏။-
၁၄ သူတို့သည်ထ၍၊ ယေရုရှလင်မြို့၌ရှိသောယဇ်
ပလ္လင် တို့ကို ၎င်း၊ နံ့သာ ပေါင်း မီးရှို့ ရာ ယဇ်
ပလ္လင် ရှိသမျှ တို့ကို ၎င်း ပယ်ရှင်း ၍၊ ကေဒြုန်
၁၅ ချောင်းထဲသို့ ပစ်ချကြ၏။- ဒုတိယလ၊ တဆယ်
လေးရက်နေ့တွင်၊ပသခါသိုးသငယ်ကိုသတ်ကြ
၏။ ယဇ်ပုရောဟိတ်၊ လေဝိသားတို့သည်သတိ
ရ၍ကိုယ်ကိုသန့်ရှင်းစေလျက်၊ မီးရှို့ရာယဇ်တို့
၁၆ ကိုဗိမာန်တော်ထဲသို့သွင်းကြ၏။-ဘုရားသခင်
၏လူမောရှေပညတ်တရား၌ စီရင်သောထုံးစံအ
တိုင်း၊ မိမိတို့နေရာ၌ရပ်နေလျက်၊ ယဇ်ပုရော
ဟိတ်တို့သည် လေဝိသားတို့လက်မှ အသွေးကို
၁၇ လှူ၍ဖြန်းကြ၏။- မသန့်ရှင်းသောသူအများတို့
သည်ပရိသတ်၌ပါသောကြောင့်၊ထိုမသန့်ရှင်း
သောသူရှိသမျှတို့ကို၊ ထာဝရဘုရားအဖို့ သန့်
ရှင်းစေခြင်းငှါ၊ ပသခါသိုးသငယ်သတ်ခြင်းအ
၁၈ မှုကို၊ လေဝိသားတို့သည် စောင့်ရကြ၏။- များ
စွာသောလူတည်းဟူသော၊ ဧဖရိမ်အမျိုး၊မနာ
ရှေအမျိုး၊ဣသခါအမျိုး၊ ဇာဗုလုန်အမျိုးသား
အများတို့သည် ကျမ်းစာ၌ ပါသောတရားသို့မ
လိုက်၊ ကိုယ်ကိုမသန့်ရှင်းစေဘဲ၊ ပသခါသိုးသ
၁၉ ငယ်ကိုစားကြ၏။- သို့ရာတွင်၊ဟေဇကိက၊သန့်
ရှင်းရာ ဌာန ထုံးစံ အတိုင်း၊ သန့်ရှင်းခြင်း မရှိ
သော်လည်း၊ ဘိုးဘေးတို့၏ဘုရားသခင်ထာဝရ
ဘုရားကိုဆည်းကပ်ခြင်းငှါ၊ သဘောကျသော
သူ အပေါင်းတို့၏ အပြစ်ကို ကောင်းမြတ်သော
ထာဝရဘုရားသည် လွှတ်တော်မူပါစေသောဟု၊
၂၀ ထိုသူတို့အဖို့ ဆုတောင်းသဖြင့်- ထာဝရဘုရား
သည် ဟေဇကိစကားကို နားထောင်တော်မူ၍၊
၂၁ လူများတို့ကိုချမ်းသာပေးတော်မူ၏။- ယေရုရှ
လင်မြို့၌ စည်းဝေးသော ဣသရေလအမျိုးသား
တို့ သည်၊ ခုနစ်ရက် ပတ်လုံး အလွန် ရွှင်လန်း
သောစိတ်နှင့်အဇုမ ပွဲကို ခံကြ၏။ ယဇ် ပုရော
ဟိတ် လေဝိသားတို့သည် အသံကျယ်သောတူ
ရိယာမျိုးကိုတီး မှုတ်လျက်၊ နေ့ ညဉ့်မပြတ် ထာ
၂၂ ဝရဘုရားအားသောမနာသီခြင်းဆိုကြ၏။-ထာ
ဝရဘုရား၏ တရားတော်မြတ်ကို သွန်သင်သော
လေဝိသားအပေါင်းတို့ကို၊ ဟေဇကိသည်အား
ပေး သော စကားနှင့် နှုတ် ဆက် သဖြင့်၊ သူတို့
သည် ခု နှစ်ရက် ပတ် လုံး ပွဲခံ စည် အခါ၊ စား
သောက်လျက် မိဿဟာယ ပူဇော်သကာကိုပြု
လျက်၊ဘိုးဘေးတို့၏ဘုရားသခင်ထာဝရဘုရား
၂၃ အားတောင်းပန်လျက်နေကြ၏။-စည်းဝေးသော
သူအပေါင်းတို့သည် ခုနစ်ရက်ထပ်၍ ပွဲခံခြင်း
ငှါ တိုင်ပင်ပြီးမှ၊ ရွှင်လန်းသော စိတ်နှင့် ခုနစ်
၂၄ ရက်ထပ်၍ ပွဲခံကြ၏။- ယုဒရှင်ဘုရင်ဟေဇကိ
သည် နွား တထောင်နှင့် သိုး ခုနစ်ထောင် တို့ကို
၎င်း၊ မှူးမတ် တို့ သည် နွား တထောင် နှင့် သိုးတ
သောင်း ကို၎င်း၊ စည်းဝေးသော သူတို့အားပေး
ကြ၏။ များစွာသော ယဇ် ပုရောဟိတ် တို့သည်
၂၅ ကိုယ်ကိုသန့်ရှင်းစေကြ၏။- ယဇ်ပုရောဟိတ်၊
လေဝိသားတို့နှင့် တကွ ယုဒ ပရိသတ်များ၊ ဣ
သရေလ ပြည်မှ လာသော ပရိသတ်များ၊ ယုဒ
ပြည်၌ နေသော တပါး အမျိုးသား၊ ဣသရေလ
ပြည်မှလာသော တပါး အမျိုးသားတို့သည် ဝမ်း
၂၆ မြောက်ဝမ်းသာကြ၏။- ထိုသို့ ယေရုရှလင်မြို့၌
ကြီးစွာသောဝမ်းမြောက်ခြင်း ရှိ၏။ ဣသရေလ
ရှင်ဘုရင် ဒါဝိဒ် သား ရှောလမုန် လက်ထက် မှ
သည်၊ နောက် တ ဖန် ယေ ရု ရှ လင် မြို့ ၌ ထို မျှ
လောက် ကြီးစွာသော ဝမ်း မြောက်ခြင်း မရှိ။-
၂၇ ထိုအခါ ယဇ်ပုရောဟိတ်၊ လေဝိသား တို့ သည်
ထ၍လူများတို့ကို ကောင်းကြီးပေးကြ၏။သူတို့
စကားသံကို ဘုရားသခင် ကြားတော်မူ၏။ သန့်
ရှင်းသော ကျိန်းဝပ် တော်မူရာ၊ ကောင်းကင်ဘုံ
သို့ပဌနာစကားတက်လေ၏။

၃၁

၁ ထိုအမှု လက် စသတ် သော အခါ၊ စည်းဝေး
သောဣသရေလ လူအပေါင်းတို့သည်၊ ယုဒမြို့
များသို့ထွက်သွား၍ ယုဒပြည်၊ ဗင်္ယာမိန်ပြည်၊
ဧဖရိမ် ပြည်၊ မနာ ရှေ ပြည် အရပ်ရပ်၌ ရှိသော
ရုပ် တု ဆင်း တု၊ အာရှ ရပင်၊ မြင့် သော အရပ်၊
ယဇ်ပလ္လင် ရှိသမျှ တို့ကို ရှင်းရှင်း မဖျက်ဆီးမှီ

ထိုစ် အောင် မြို့ခဲ့၊ စုင်ဘျည်း မြို့ရှု ကြ ၏၊ ထိုနောက်မှ၊ ရှုထရေထ အမျိုး သား အပေါင်း တို့ သည်၊ အသီးအသီးပိုင်ထိုတ်သောနေရာမြို့ ရွာ တို့သို့ပြန် သွားကြ၏။

ယစ်ပရောဟိတ် လေဝိ သားတို့သည်၊ အသီး အသီး စောင့်ရသော အမှုကို အလျည့်သင့်သည် အတိုင်း စောင့်လျှက်၊ ယာဝေရ ဘုရား ကျိန်း ဝပ် တော်မူသော ဗွာနဘော်တံခါး အတွင်း၌၊ မီး ရှို့ ရာယစ်နှင့်မိဿဟာယယစ်ကိုပူဇော်ခြင်း၊ အမှုတော်မျိုးကို စောင့်ခြင်း၊ ကျေးဇူးတော်ကိုဝန်ခံခြင်း၊ ထော မနာ သိခြင်း ဆို ခြင်း အမှု ကို ပြု စေ ခြင်း၌၊ ထေဇကိ ဝန့် ထားတော်မူ၏။- ယာဝေရ ဘုရား၏ ပညတ်ကျမ်း၌ရေးထားသည့်အတိုင်း၊ နေ့ရက်အစည်းနံနက်အချိန်၊ညဦးအချိန်၊ ဥပုသ် နေ့၊ လဆန်း နေ့၊ ဝန္တ ပွဲနေ့ တွင် မီး ရှို့ရာ ယစ်ပူဇော် စရာတို့၊ အလှူတော် ထဲက ဥစ္စာ တချို့ ကို ထုတ်၍ လှူတော်မူ၏။- ယစ်ပရောဟိတ်၊ လေဝိ သား တို့သည် ယာဝေရ ဘုရား၏ တရား ကို ကြိုး စား၍ လွန် ထင် စေ ခြင်း ၄ါ၊ ယေရုရှလင် မြို့၌ နေသော သူတို့ သည် ဥစ္စာ တချို့ ကို လှူရမည် အကြောင်း မိန့် တော် မူ၏။- ထိုအမိန့် တော်ကို ဣ သရေထ အမျိုးသား တို့ သည် အနှံ့အပြား ကြား သိကြ သော အခါ၊ အဦး သီး သော စပါး၊ စပျစ် ရည်၊ ဆီ၊ ပျားရည်အစရှိသော မြေအသီး အနှံ့ ကိုငင်၊ အခြားသော ဥစ္စာ ရှိ သမျှ ဆယ်ဘို့ တဘို့ ကို ငင်ရွှား ဆောင်ခဲ့ကြ၏။- ယုဒမြို့တို့၌နေသော ဣသရေထ အမျိုး သား နှင့် ယုဒ အမျိုးသား တို့ သည်လည်း၊ သိုး နွား ဆယ်ဘို့တဘို့ကိုငင်၊ သူတို့၏ ဘုရား သခင် ယာဝေရ ဘုရားအား ပူဇော် ၍ သန့်ရှင်းသော ဥစ္စာ ဆယ်ဘို့ တဘို့ကိုငင်၊ ဆောင်ခဲ့ ၍ အသီးအသီး ပုံထားကြ၏၊- တတိယလတွင် ပုံ ထားစ ပြု၍၊ သတ္တမလတွင်လက်စသတ်ကြ၏။- ပုံထားသော ဥစ္စာကို၊ ထေဇကိ နှင့် မှူးမတ်တို့ သည်လာ၍ မြင်သောအခါ၊ ယာဝေရဘုရား နှင့် ဘုရားသခင်၏ လူ ဣသရေထ အမျိုးကို ကောင်း ကြီးပေးကြ၏၊- ထိုပုံထားသော ဥစ္စာအကြောင်း ကိုထေဇကိသည် ယစ်ပရောဟိတ်၊ လေဝိသား တို့၌မေးမြန်းလျှင်- ဇာဒုတ်အမျိုး၊ ယစ်ပရော ဟိတ် အကြီး အာဇရိ က ပူဇော် သ ကာ တို့ကို၊ မိတ်မှန်တော်သို့ ဆောင်ခဲ့စ မှသော နောက်၊ အကျွန်ုပ် သို့ စား၍ ဝပြောက်အောင် ရှိသည် သာ မက ရှား စွာ ကျန် ကြွင်း တတ်ပါ၏၊ ယာဝေရ ဘုရား သည် မိမိလူတို့ကို ကောင်းကြီး ပေးတော်မူသော ကြောင့်၊ ပုံထား သော ဤ ဥစ္စာ ရှား ဆည် ကျန် ကြွင်းလျက် ရှိပါသည်ဟု လျှောက်ကြ၏။- ထို အခါ မိတ်မှန်တော်၌ အလှူတော် တိုက်တို့ကိုပြင်ဆင် စေမည် အကြောင်း၊ ဟေဇကိမိန့်တော်မူသည် အတိုင်းပြင်ဆင်၍- လှူသော ဥစ္စာ၊ ဆယ်ဘို့တဘို့ ဥစ္စာ၊ ပူဇော်သော ဥစ္စာများကို တရားနှင့်အညီ သွင်း ထား ကြ ၏၊ လေဝိသား ကောနနိ အည် တိုက်စုပ်၊ သူ၏ညီ ရှိမိသည် တိုက်စာရေး ဖြစ် ၏။- ယေဟေလ၊ အာဇဇိ၊ နာထတ်၊ အာသဟေ လ၊ ယေရိမုတ်၊ ယောဇဗတ်၊ ဧလျေလ၊ ဣသမခိ မာတတ်၊ ဗေနာယတို့သည်လည်း ထေဇကိမင်း ကြီးနှင့် ဗိတ်မှန်တော်အုပ်အာဇရိမိန့်ချက်အ တိုင်း၊ ကောနနိနှင့်သူ၏ညီရှိမိတို့သည်အစစ်၍ ကြည့်ရှုပြုစုရကြ၏။- အရှေ့တံခါး မှူး၊ လေဝိသား ဣမနသား ကောရ သည်၊ ယာဝေရ အရှင် ဘုရား ထံ အား လှူ တန်း ပူဇော်သော ဥစ္စာ၊ အလွန် သန့်ရှင်းသော ဥစ္စာများကို ဝေဝေ ရသော အမှု အုပ်ဖြစ်၏။- ကောရလက်ထောက်၊ ဧဒင်၊ မယာ မိန်၊ ယောရှု၊ ရှေမာယ၊ အာမရိ၊ ရှေကနိတို့သည် ထည့်း ယစ်ပရောဟိတ်နေရာမြို့တို့၌တာရာခံသည် အတိုင်း၊ သင်း ဖွဲ့သော ညီအစ်ကိုအကြီး အငယ် တို့အား ဝေပေးဝေရကြ၏။- သင်း ဖွဲ့သည် အတိုင်း မိတ်မှန်တော်သို့ဝင်၍ အမှုတော်ကိုစောင့်သော သူ၊ စာရင်းဝင်သည် အတိုင်း၊ အသက်သုံးနှစ် လွန်သော ယောက်ျား အပေါင်းတို့အားငင်- အ ဆွေ အမျိုး အလိုက် စာ ရင်း ဝင်၍၊ အသက် နှစ် ဆယ် လွန် သဖြင့်၊ သင်း ဖွဲ့သည် အတိုင်း၊ အမှု တော်စောင့် သော ယစ် ပရောဟိတ် လေဝိသား တို့အားငင်- သစ္စာစောင့်၍ ကိုယ်ကို သန့်ရှင်း စေသော ထိုသူတို့၏ သားမယား သူငယ်မှစ၍၊ ပရိသတ် အနှံ့ အပြား စာရင်း ဝင်သမျှသောသူ တို့အားငင်၊ နေ့ရက် အစည်း အတိုင်း ပေးဝေရ ကြ၏။- ထိုအတူ၊ အထက် ဆိုခဲ့ ပြီးသော သူတို့ သည်ယစ်ပရောဟိတ်၊ လေဝိသားနေစရာမြို့ခွဲ ထား သော မြို့နယ် တို့၌ နေ သော အာရုန် သား ယစ် ပရောဟိတ် ယောက်ျား၊ စာရင်း ဝင်သော လေဝိသားအပေါင်းတို့အား ထည့်ပေးဝေရကြ ၏။- ထိုသို့ဟေဇကိ သည် ယုဒပြည် အရှေ့အ ထုံး တွင်စီရင်၍၊ မိမိဘုရားသခင်ယာဝေရဘုရား ရှေ့တော်၌ကောင်းသောအမှု၊ ဖြောင့်မတ်သော အမှု၊ သစ္စာစောင့်သော အမှုကို ပြုတော်မူ၏။- မိမိ

ဘုရားသခင်ကိုဆည်းကပ်လျက်၊ မိတ်နှလုံးတော်၊
တရားတော်၊ ပညတ်တော် တို့အမှု အမှုစောင့်
၍ထေရာရာ၌၊ မိတ်နှလုံးအကြွင်းမဲ့ပြု၍အကြ
ထမြောက်တော်၏။

၃၂

၁ ထိုအမှုရှားထိုကိုထက်စထက်ထည်နောက်၊
အာရှုရိ ရှင်ဘုရင် သနာခရိပ် သည်၊ ယုဒ ပြည်
ထိုစ်ရှိ၍ ခိုင်ခံ့သော မြို့တို့ကို ပိုင်းထားလျက်
၂ ထိုတ်ထွက်ခြင်း၄ါ၊ ဟေဇကိသည်- ထိုသို့ သ
နာခရိပ်ထည်ထာ၍၊ ယေရုရှလင်မြို့ကို ထိုက်
မည်အကြံရှိကြောင်းကို၊ ဟေဇကိသည်သိမြင်
၃ လှုပ်- မြို့ပြင်၌ရှိသောခပ်းရေကိုဖြတ်ခြင်း၄ါမှူး
မတ်၊ စစ်သူကြီး တို့နှင့် တိုင်ပင်၍၊ သူတို့သည်
၄ ပိုင်းထုပ်ကြ၏။- အာရှုရိရှင်ဘုရင်တို့သည်လာ
၍၊ များစွာသောရေကို အဘယ်ကြောင့်တွေ့ရ
မည်နည်းဟု လူများတို့သည်ဆို၍လျက်၊ စုဝေး
၍ စမ်းရေတွင်း ရှိသမျှကို ပိတ်ကြ၏။ ပြည်အ
ထတ်၌ စီးသော ချောင်းရေ ကိုထည်း ဖြတ်ကြ
၅ ၏- ဟေဇကိသည်လည်း ကိုယ်ကိုခိုင်ခံ့စေ၍၊
ပြိုသောမြို့ရိုး ရှိသမျှကိုပြုပြင်၍၊ ရဲတိုက်တို့နှင့်
အညီတည်းတည်ပြီး၊ ပြင်မြို့ရိုးကိုထည်း တည်
၏။ ဒါဝိဒ်မြို့၌မိလ္လောရဲတိုက်ကိုသည်းပြုပြင်၍၊
များစွာသော လှံ့ သက်နက်၊ ဒိုင်းလွှား တို့ကို
၆ တည်းထုပ်ထော်၏- လူများတို့ တွင် တပ်မှူးတို့
ကိုခန့်ထား၍၊ မြို့ထပ်းပ၌စုဝေးစေသဖြင့်၊ အား
၇ ပေးသော စကားကိုပြောလျက်- ခွန်အားယူ၍
ရဲရင့်ခြင်း ရှိကြလော့။ အာရှုရိ ရှင်ဘုရင် နှင့်
ထူ၌ ပါသောအလုံးအရင်း အပေါင်းအဘို့ကြောင့်
မကြောက် ကြနှင့်၊ စိတ် မပျက် ကြနှင့်၊ ငါတို့
ထက်၌နေသောသူတို့သည်၊ သူထက်၌နေသော
၈ သူတို့ထက် သာ၍ များကြ၏။- သူထက်၌ လူ
ထက်ရုံးရှိ၏။ ငါတို့ဘက်၌ ထောက်မ၍၊ စစ်ကူ
တော်မူသောငါတို့၏ဘုရားသခင်ထာဝရဘုရား
ရှိတော်မူ သည် ဟု မိန့်တော်မူ၏။ လူ များ တို့
သည် ယုဒရှင်ဘုရင် ဟေဇကိ၏ စကားကို ကိုး
စားကြ၏။

၉ ထိုနောက်၊ အာရှုရိရှင်ဘုရင်သနာခရိပ်သည်
မိမိအစိုးရခြင်းအပေါင်းတို့နှင့်တကွ၊ လာခိရှမြို့ကိုဝိုင်း
ထားစဉ်တွင်၊ မိမိကျွန်အချို့ကိုယေရုရှလင်မြို့၊
ယုဒ ရှင်ဘုရင် ဟေဇကိ ထံသို့၎င်း၊ ယေရုရှလင်
မြို့၌ရှိသော ယုဒလူ အပေါင်းတို့ ရှိရာသို့၎င်း စေ
၁၀ လွှတ်၍- အာရှုရိရှင်ဘုရင်သနာခရိပ်မိန့်တော်
မူသည်ကား၊ သင်တို့သည်ယေရုရှလင်မြို့၌ပိုင်း
ထားခြင်းကို ခံခြင်း၄ါ၊ အဘယ်သို့ ခိုလှုံကြသ
၁၁ နည်း။- ဟေဇကိက၊ ငါတို့၏ဘုရားသခင်ထာဝ
ရဘုရားသည်ငါတို့ကိုအာရှုရိရှင်ဘုရင်လက်မှ
ကယ်လွှတ်တော်မူမည်ဟုဆိုလျက်၊ မွတ်သိပ်
ခြင်း၊ ရေငတ်ခြင်းအားဖြင့်အသေခံရသည်တိုင်
အောင်၊ ကိုယ်တို့ကို သွေးဆောင်ခြင်း၄ါ၊ သင်တို့ကို
၁၂ ခြားယောင်းသည်မဟုတ်လော။- ထိုဟေဇကိ
သည် ထာဝရဘုရား၏ မြင့်သောအရပ်နှင့်
ယဇ်ပလ္လင် တို့ကို ပယ်၍၊ သင် တို့ သည် တ ခု
တည်းသောယဇ်ပလ္လင်ရှေ့မှာကိုးကွယ်ရမည်၊
ထိုယဇ်ပလ္လင်ပေါ်မှာ နံ့သာ ပေါင်းကို မီးရှို့ ရ
မည်ဟု၊ ယုဒပြည်သူ ယေရုရှလင်မြို့သားတို့ကို
၁၃ မိန့်တော်မူပြီ မဟုတ်လော။- ငါနှင့် ငါ့ဘိုးဘေး
တို့သည်၊ အတိုင်းတိုင်း၊ အပြည်ပြည် တို့၌ အဘယ်
သို့ပြုသည်ကိုသင်တို့မသိကြသလော။ အတိုင်း
တိုင်း၊ အပြည်ပြည် ဘုရား တို့သည် မိမိတို့ပြည်
များကို၊ ငါ့လက်မှကယ်လွှတ်ခြင်း၄ါ တတ်စွမ်း
၁၄ နိုင်သလော။- ငါ့ဘိုးဘေးအကုန်အစင်ဖျက်ဆီး
သော တိုင်းနိုင်ငံတို့၏ ဘုရားတို့တွင်၊ အဘယ်
မည် သော ဘုရား သည် မိမိ ပြည်ကို ငါ့ လက်မှ
ကယ်လွှတ်ဘူးသနည်း။ သင်တို့၏ဘုရားသည်
သင်တို့ကို ငါ့လက်မှအဘယ်သို့ကယ်လွှတ်မည်
၁၅ နည်း။- သို့ဖြစ်၍၊ ဟေဇကိသည် သင်တို့ကို
လှည့်စားစေနှင့်၊ ထိုသို့မခြားယောင်းစေနှင့်၊
သူ့စကားကိုမယုံကြနှင့်။ အခြားသောတိုင်းနိုင်
ငံ၌ကိုးကွယ်သောဘုရားမည်မျှသည်၊ မိမိပြည်
ကိုငါ့လက်မှ၎င်း၊ ငါ့ဘိုးဘေးလက်မှ၎င်းမကယ်
လွှတ်နိုင်၊ ထိုမျှမက၊ သင်တို့၏ဘုရားသည်သင်
တို့ကို ငါ့လက်မှ မကယ်မလွှတ်နိုင်ဟု မှာထိုက်
၁၆ လေ၏။- သူ့ကျွန်တို့သည် ထာဝရအရှင်ဘုရား
သခင်တစ်ဖက်၊ ဘုရားသခင်၏ကျွန် ဟေဇကိတ
၁၇ ဖက်၌သာ၍ပြောဆိုကြ၏။- ထိုမှတပါး၊ အခြား
သောတိုင်း နိုင်ငံ ဘုရားတို့သည်၊ မိမိတို့လူများ
ကို ငါ့လက်မှ မကယ် မလွှတ်နိုင် သည်နည်းတူ၊
ဟေဇကိ ကိုးကွယ်သော ဘုရားသည်၊ သူ၏လူ
များကို ငါ့လက်မှ မကယ် မလွှတ်ရဟု၊ ဣသရေ
လအမျိုး၏ ဘုရားသခင် ထာဝရ ဘုရားကို ကဲ့ရဲ့
ပြစ်တင်သော စာကိုရေး၍ ပေးလိုက် သေး၏။-
၁၈ တပန်ဖြိုး၊ ပေါ်မှာရှိသောယေရုရှလင်မြို့သား
တို့ကိုခြိမ်းခြောက်နှောင့်ရှက်၍၊ မြို့ကို ထိုက်ယူ
နိုင်အောင်၊ ယုဒဘာသာစကားအားဖြင့်ကျယ်

၁၉ သော အသံနှင့် ဟစ်ကြော်ကြ၏။— လူတို့လက်
ဖြင့် လုပ်သော ဘုရား၊ မြေ ကြီး သားများ ကိုး
ကွယ်သောဘုရားတို့နှင့်၊ ယေရုရှလင်မြို့ဘုရား
သခင်ကိုရောနှော၍ကဲ့ရဲ့ကြ၏။
၂၀ ထိုအကြောင်းကြောင့်၊ ဟေဇကိမင်းကြီးနှင့်
အာမုတ် သား ပရောဖက် ဟေရှာယ သည် ဆု
တောင်း၍၊ ကောင်းကင်ဘုံသို့ဟစ်ခေါ်သဖြင့်-
၂၁ ထာဝရ ဘုရား စေလွှတ်တော် မူသော ကောင်း
ကင် တမန်သည်၊ အာရှုရိ ရှင်ဘုရင်တပ်၌ စွန်
အားကြီးသောသူရဲများ၊ တပ်မှူး၊ စစ်ကဲများအ
ပေါင်းတို့ကိုသုတ်သင်ပယ်ရှင်းလေ၏။ ရှင်ဘုရင်
သည်မျက်နှာပျက်လျက်၊ မိမိပြည်သို့ပြန်သွား
၏ မိမိဘုရား၏ဗိမာန်သို့ ရောက်သော အခါ၊
၂၂ မိမိသားရင်းတို့သည် ထားနှင့်သတ်ကြ၏။— ထို
သို့ထာဝရဘုရားသည်ဟေဇကိနှင့်ယေရုရှလင်
မြို့သားတို့ကို၊ အာရှုရိရှင်ဘုရင်လက်မှရင်း၊ အ
ခြားသောရန်သူလက်မှရင်းကယ်လွှတ်၍၊ အရပ်
၂၃ ရပ်၌စောင့်မတော်မူ၏။— အများသောသူတို့သည်
ယေရုရှလင်မြို့သို့၊ ထာဝရဘုရားအဖို့ပူဇော်သ
ကာကိုရင်း၊ ယုဒရှင်ဘုရင်ဟေဇကိထံသို့ လက်
ဆောင်ပဏ္ဏာကိုရင်း၊ ဆောင်ခဲ့ကြသဖြင့်၊ ဟေဇ
ကိသည် ထိုကာလမှစ၍၊ ခပ်သိမ်းသော လူမျိုး
ရှေ့မှာဘုန်းကြီးတော်မူ၏။
၂၄ ထိုကာလအခါဟေဇကိမင်းသည်သေနာစွဲ၍
ထာဝရဘုရားအား ဆုတောင်းသဖြင့်၊ ဗျာဒိတ်
တော်နှင့်ထူးဆန်းသော တန်ခိုးတော်ကိုခံရ၏။—
၂၅ သို့ရာတွင်၊ ဟေဇကိသည်မိမိခံရသောကျေးဇူး
တော်နှင့် အလိုက် အလျောက် မကျင့်၊ ထောင်
လွှားသော စိတ်ရှိ၏။ ထိုကြောင့် သူ့၌၎င်း၊ ယုဒ
ပြည်နှင့်ယေရုရှလင်မြို့၌၎င်းအမျက်တော်ထွက်
၂၆ လေ၏။— သို့ရာ တွင်၊ ဟေဇကိ သည် မိမိ စိတ်
ထောင်လွှားသောအပြစ်ကြောင့်၊ ယေရုရှလင်မြို့
သားတို့နှင့် တကွ၊ ကိုယ် တိုင် ကိုယ်ကို နှိမ့်ချ
သောကြောင့်၊လက်ထက်တော်ကာလတွင်၊ထာ
ဝရဘုရား၏အမျက်တော်မသက်ရောက်။
၂၇ ဟေဇကိသည် များစွာသော စည်းစိမ်စွာ
ဂုဏ်အသရေရှိ၏။ ရွှေ၊ ငွေ၊ ကျောက်မြတ်၊ နံ့သာ
မျိုး၊ ဒိုင်းလွှား၊ နှစ်မြောဖွယ်သော တန်ဆာသို
ထားရာ ဘဏ္ဍာ တိုက်များကို တည်လေ၏။—
၂၈ စပါးကျီများ၊ ဆီ၊ စပျစ်ရည် သိုထားရာ တိုက်
များ၊ တိရစ္ဆာန်မျိုးတင်းကုပ်များ၊ သိုးခြံများ
၂၉ ကိုလည်းလုပ်လေ၏။— ကိုယ်အဖို့မြို့တို့ကိုတည်
၍၊ များစွာသော သိုး နွား တို့ကိုလည်း ဆည်း
ပူးလေ၏။ ဘုရားသခင်သည် များစွာသောဥစ္စာ
၃၀ ကိုပေးသနားတော်မူ၏။— ထိုမှတပါး၊ ဟေဇ
ကိသည် ဂိဟုန် အထက် ချောင်းရေကိုပိတ်၍၊
ဒါဝိဒ်မြို့ အနောက်ဘက်သို့တည့်တည့်စီးစေ၏။
ထိုသို့ ဟေဇကိ သည် ပြုလေ ရာရာ၌ အကြံ
မြောက်၏။
၃၁ သို့ရာတွင်၊ နိုင်ငံတော်၌ ဖြစ်သော၊ အံ့ဩဖွယ်
သော အမှုကိုမေးမြန်းစေခြင်းငှါ၊ ဗာဗုလုန်မင်း
တို့ သည် သံ တမန်ကို စေလွှတ်သော အမှု မှာ၊
ဟေဇကိ မင်း၏ သဘော ကို အကုန် အစင် သိ
ခြင်းငှါ၊ ဘုရား သခင် သည် စုံစမ်း၍ အလွှတ်
ထားတော်မူ၏။
၃၂ ဟေဇကိပြုသောအမှုအရာ ကြွင်းသောအမှု
တို့နှင့် ကျေးဇူးပြုခြင်းအရာသည် အာမုတ်သား
ပရောဖက် ဟေရှာယ၏ရူပါရုံကျမ်း၊ ယုဒရာဇ
ဝင်၊ ဣသရေလရာဇဝင်၌ရေးထားလျက်ရှိ၏။—
၃၃ ဟေဇကိသည်ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊ ဒါဝိဒ်
၏ သားတော် မြေးတော်တို့ သင်း ချိုင်းတွင် အ
မြတ်ဆုံးသောသင်းချိုင်း၌ သင်းဂြိုဟ် ခြင်းကိုခံ
လေ၏။ ယုဒပြည်သူယေရုရှလင်မြို့သားအပေါင်း
တို့ သည်၊ ဟေဇကိ အနိစ္စ ရောက် သော အ ခါ၊
ဂုဏ် အသရေ တော်ကို ချီးမြှောက် ကြ၏။ သား
တော် မနာရှေ သည် ခမည်း တော် အရာ ၌ နန်း
ထိုင်၏။

## ၃၃

၁ မနာရှေသည်အသက်တဆယ်နှစ်နှစ်ရှိသော်၊
နန်းထိုင်၍ယေရုရှလင်မြို့၌ငါးဆယ်ငါးနှစ်စိုးစံ
၂ လေ၏။— ထိုမင်းသည်ဣသရေလအမျိုးသားရှေ့
မှာ၊ ထာဝရဘုရားနှင်ထုတ်တော်မူသောတပါး
အမျိုးသား၊ ရွံရှာဖွယ် ထုံးစံ အတိုင်း၊ ထာဝရ
၃ ဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၏။— ခမည်းတော်
ဟေဇကိဖျက်ဆီးသောကုန်းတို့ကိုပြုပြင်၍၊ ဗာ
လံဘုရားတို့အဖို့ယဇ်ပလ္လင်တို့ကိုတည်၏။ အာ
ရှရပင်တို့ကိုလည်းပြုစု၏။ မိုဃ်းကောင်းကင်တန်
၄ ဆာများကိုလည်းဝတ်ပြုကိုးကွယ်၏။— ယေရုရှ
လင်မြို့၌ နာမကိုအစဉ် ငါတည် စေမည်ဟု၊
ထာဝရ ဘုရား မိန့် တော်မူသော မြို့၊ ဗိမာန်
၅ တော်၌ ယဇ် ပလ္လင် တည်း၊ တူသော— ဗိမာန်
တော်တန်တိုင်း နှစ်ရပ်တွင်၊ မိုဃ်းကောင်းကင်
တန်ဆာများအဖို့ ယဇ်ပလ္လင် တို့ကို တည်၏။—
၆ မိမိသားတို့ကို ဟိန္နုံသား ချိုင့်၌ မီးဖြင့် ပူဇော်

၏၊ အာသေရမေခင်ကိုကြည့်တတ်၏၊ ပြုစားသော
အတတ်၊ နတ်ဝိဇ္ဇာ အတတ် ကို သုံးဆောင် ၍၊
စုန်းနှင့်နတ်ဝင်တို့ကို ထည်းအခွင့်ပေး၏၊ ထာဝ
ရဘုရား၏ အရှက်တော်ကို နှိုးဆော် ခြင်းငှါ ရှေ့
၇ တော်၌ များစွာသော ဒုစရိုက်ကို ပြု၏။- ဤ မိတ်
မှန်၌ ၎င်း၊ ဣသရေလ ခရိုင် များ တို့တွင် ငါရွေး
ကောက်သော ယေရုရှလင် မြို့၌၎င်း၊ ငါ့နာမကိုအ
စဉ် အမြဲ ငါတည် စေမည်ဟု၊ ထာဝရ ဘုရား
သည်ဒါဝိဒ်နှင့် သားတော် ရှောလမုန်အား မိန့်
တော်မူရာ၌၊ ရည်စေခင်သော မိတ်မှန်တော် ထဲ
မှာ၊ မိမိပြုစုသော ရုပ်တုနှင့်တူအောင်လုပ်သော
၈ ရုပ်တုတခုကို တင်ထား၏။- ငါမှာထားသမျှ အ
တိုင်း၊ မောရှေအားဖြင့် မိရင်ထုံးဖွဲ့သမျှသော
တရားအတိုင်း၊ ဣသရေလအမျိုးသားတို့သည်
ကျင့်ခြင်းငှါ စောင့် ရှောက်လျှင်၊ သူတို့ဘိုးဘေး
တို့အားငါပေးသောပြည်မှ၊ သူတို့ကိုနောက်တ
ဖန် ငါ မရွှေ့ မပြောင်းစေဟု မိန့် တော် မူ သော်
၉ လည်း၊- မနာရှေသည် ယုဒ ပြည်သူ ယေရုရှလင်
မြို့သား တို့ကိုထမ်း ဖွဲ့စေ၏၊ ဣသရေလ အမျိုး
သားတို့ရှေ့မှ၊ ထာဝရ ဘုရား ဖျက်ဆီး တော်မူ
သောလူမျိုးတို့ပြုသည်ထက်၊ သာ၍ဆိုးသောအ
မှုကိုပြုစေ၏။
၁၀ ထာဝရဘုရားသည် မနာရှေနှင့် သူ၏ လူတို့
အားမိန့်တော် မူသော်လည်း၊ သူတို့သည် နားမ
၁၁ ထောင်ဘဲ နေသောကြောင့်- အာရှုရိ ရှင်ဘုရင်
၏ဗိုလ်မင်းများကိုစစ်ချီစေတော်မူသဖြင့်၊ သူတို့
သည်မနာရှေကိုဆူးတော၌ဖမ်းမိ၍၊ သံကြိုးနှင့်
ချည်နှောင်ပြီးမှ၊ ဗာဗုလုန်မြို့သို့ဆောင်သွားကြ
၁၂ ၏။-ထိုသို့မနာရှေသည်ဆင်းရဲဒုက္ခကိုခံရသော
အခါ၊ မိမိဘုရားသခင်ထာဝရဘုရားကိုတောင်း
ပန်၍၊ ဘိုးဘေးတို့၏ဘုရားသခင် ရှေ့မှာကိုယ်
၁၃ ကို အလွန် နှိမ့် ချလျက်- ဆုတောင်း ပဌနာပြု
သောစကားကို ဘုရားသခင် နားထောင် နာယူ
၍၊ မနာရှေအုပ်စိုးရင်းပြည်၊ ယေရုရှလင်မြို့သို့
တဖန်ပို့ဆောင်တော်မူ၏၊ ထိုအခါထာဝရဘုရား
သည်ဘုရားသခင် ဖြစ်တော် မူကြောင်းကို မနာ
ရှေသိရ၏။
၁၄ ထိုနောက်၊ ဒါဝိဒ်မြို့ပြင်၊ ဂိဟုန်မြို့ အနောက်
ထက်၊ ချိုင့်ထဲမှာငါးတံခါးဝတိုင်အောင်၎င်း၊ ဩ
ဖေလရဲတိုက်ပတ်လည်၌၎င်း၊ အလွန် မြင့်သော
မြို့ရိုးကိုတည်၏။ ယုဒပြည်တွင် ခိုင်ခံ့သောမြို့
၁၅ သမျှတို့၌၊ တပ်မှူးတို့ကို ခန့်ထား၏။-တပါးအ
မျိုးတို့၏ဘုရားများနှင့် အရင်ထုစ်သော ရုပ်တု
ကို၊ မိတ်မှန်တော်ထဲကထုတ်၍၊ မိတ်မှန်တော်
တောင်ပေါ်၊ ယေရုရှလင် မြို့ထဲမှာ အရင် တည်
သော ယဇ်ပလ္လင် တို့ကိုလည်း၊ မြို့ပြင်သို့ ထုတ်
၁၆ ပစ်လေ၏။- ထာဝရဘုရား၏ ယဇ်ပလ္လင်ကိုပြု
ပြင်၍၊ မိဿဟာယယဇ်နှင့်ကျေးဇူးတော်ဝန်ခံ
ရာယဇ်တို့ကိုပူဇော်၏။ ယုဒပြည်သားတို့သည်၊
ဣသရေလ အမျိုး၏ ဘုရားသခင် ထာဝရဘုရား
၁၇ ကိုဝတ် ပြုမည် အကြောင်း မှာထား ၏။- သို့ရာ
တွင်၊ ပြည်သားတို့သည်မြင့်သောအရပ်ပေါ်မှာ
ယဇ်ပူဇော်လျက်ပင်၊ မိမိတို့ဘုရား သခင်ထာဝ
ရဘုရားကိုသာကိုးကွယ်ကြ၏။
၁၈ မနာရှေ ပြုမူသော အမှုအရာ ကြွင်းလေ သမျှ
တို့နှင့်၊ မိမိဘုရားသခင်ကိုဆုတောင်းခြင်းအရာ၊
ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရဘုရား
အခွင့် နှင့်၊ သူ့အား ပရော ဖက် တို့ ဟော ပြော
သော စကား သည်၊ ဣသရေလ ရာဇဝင်၌ ရေး
၁၉ ထားလျက် ရှိ ၏။- သူဆုတောင်းခြင်း၊ ဘုရား
သခင် နားထောင် တော် မူခြင်း၊ အမှု မရောက်မှီ
ပြစ်မှား ဒွန် ကျူးခြင်း၊ မြင့်သော အရပ်တို့ကို
တည်ခြင်း၊ အာရှရပင်နှင့် ရုပ်တုဆင်းတု တို့ကို
တည်ထောင်ခြင်းအရာတို့သည်၊ ဟောဇဲ၏ကျမ်း
၂၀ စကားတွင် ရေးထားလျက်ရှိ၏။- မနာရှေ သည်
ဘိုးဘေးတို့နှင့်အိပ်ပျော်၍၊ မိမိအိမ်၌သင်းဂြိုဟ်
ခြင်းကိုခံလေ၏။ သားတော်အာမုန်သည်ခမည်း
တော်အရာ၌နန်းထိုင်၏။
၂၁ အာမုန်သည်အသက်နှစ်ဆယ် နှစ်နှစ်ရှိသော်၊
နန်းထိုင်၍ယေရုရှလင်မြို့၌ နှစ်နှစ်စိုးစံလေ၏။-
၂၂ ထိုမင်းသည် ခမည်းတော် မနာရှေ ပြုသကဲ့သို့
ထာဝရဘုရားရှေ့တော်၌ဒုစရိုက်ကိုပြု၏။ ခမည်း
တော်လုပ်သော ရုပ်တု ဆင်းတု ရှိသမျှတို့ အား
၂၃ ယဇ် ပူဇော်၍ ဝတ်ပြု၏။- ခမည်း တော် သည်
ထာဝရဘုရား ရှေ့တော်၌ ကိုယ်ကို နှိမ့်ချသကဲ့
၂၄ သို့မနှိမ့်ချဘဲ အထူးသဖြင့်ပြစ်မှား၏။- မိမိကျွန်
တို့သည်သင်းဖွဲ့၍ နန်းတော်၌ လုပ်ကြံ ကြ၏။-
၂၅ အာမုန် မင်းကြီး တဖက်၌ သင်း ဖွဲ့သော သူအ
ပေါင်းတို့ကို၊ ပြည်သူပြည် သားတို့သည် ကွပ်
မျက်၍၊ သားတော်ယောရှိကိုခမည်းတော်အရာ
၌နန်းတင်ကြ၏။

၃၄

၁ ယောရှိသည်အသက်ရှစ်နှစ်ရှိသော်၊ နန်းထိုင်
၍ယေရုရှလင်မြို့၌ သုံးဆယ်တနှစ်စိုးစံလေ၏။-

၂ ထိုမင်းသည် ထာဝရဘုရား ရှေ့တော်၌ တရား
သော အမှုကိုပြု၍၊ လက်ျာဘက် လက်ဝဲဘက်
သို့ မလွှဲ၊ အဘဒါဝိဒ် လိုက်သောလမ်းသို့ လိုက်
တော်မူ၏။
၃ အသက် တော် ငယ် စဉ်၊ နန်း စံ ရှစ်နှစ် တွင်၊
အဘဒါဝိဒ်၏ဘုရားသခင်ကိုဆည်းကပ်စပြု၏၊ တ
ဆယ် နှစ်နှစ်တွင် ယုဒပြည်၊ ယေရုရှလင်မြို့၌ ရှိ
သောကုန်း၊ အာရှရုပင်၊ ထုသောရုပ်တု၊ သွန်း
၄ သောရုပ်တုတို့ကိုသုတ်သင်ပယ်ရှင်းစပြု၏၊ ဗာ
လဘုရားတို့ ယဇ်ပလ္လင် များကိုရှေ့တော်၌ ဖြိုဖျက်
၍၊ ယဇ်ပလ္လင်ပေါ်တွင် အမြင့် ထင်ထားသော
ရုပ်တုတို့ကို ခုတ်ချည်းကြ၏၊ အာရှရုပင်များနှင့်
ထုသော ရုပ်တု၊ သွန်းသော ရုပ်တုများကို ဖြိုး
ခွဲ၍ ညက်ညက် ခြေပြီးလျှင်၊ ယဇ်ပူဇော်သော
သူတို့၏ သင်းချိုင်းပေါ်မှာ ဖြန့်ကျဲတော်မူ၏။-
၅ ယဇ်ပရောဟိတ်တို့အရိုးကိုထိုယဇ်ပလ္လင်တည်
ရာအပေါ်မှာမီးရှို့၍၊ ယုဒပြည်နှင့် ယေရုရှလင်
၆ မြို့ကို စင်ကြယ်စေတော်မူ၏။- ထိုအတူ မနာရှေ
ခရိုင်၊ ဧဖရိမ်ခရိုင်၊ ရှိမောင်ခရိုင်၊ နဿလိခရိုင်
တိုင်အောင်၊ အရပ်ရပ်မြို့များတို့၌ပေါက်တူးနှင့်
၇ ထုပ်လျက်- ယဇ်ပလ္လင်တို့နှင့် အာရှရုပင်တို့ကို
ဖြိုးခွဲ၍၊ ဣသရေလပြည်တရှောက်လုံး၌ရှိသမျှ
သောရုပ်တု ဆင်းတုတို့ကို ခုတ်ချည်း၍၊ ညက်
ညက်ခြေပြီးမှ ယေရုရှလင်မြို့သို့ ပြန်တော်မူ၏။
၈ နန်းစံဆယ်ရှစ်နှစ်တွင်၊ နိုင်ငံတော်နှင့်ဗိမာန်
တော်ကိုစင်ကြယ်စေပြီးမှ၊ မိမိဘုရားသခင်ထာ
ဝရဘုရား၏အိမ်တော်ကိုပြုပြင်လိုသောငှါ၊ အာ
စလိ၏သားရှာဖန်၊ မြို့ဝန်မာသေယ၊ ယောခတ်
သားအတွင်းဝန် ယောအာတို့ကို စေလွှတ်တော်
၉ မူ၏။-ထိုသူတို့သည်ယဇ်ပရောဟိတ်မင်းဟိလ
ခိထံသို့သွား၍၊ ဗိမာန်တော်သို့ လူများဆောင်
ခဲ့သောငွေ၊ မနာရှေ အမျိုးသား၊ ဧဖရိမ် အမျိုး
သား ကျန်ကြွင်းသော ဣသရေလအမျိုးသားရှိ
သမျှ၊ ယုဒ အမျိုးသား၊ ဗင်္ယာမိန် အမျိုးသား
ယေရုရှလင်မြို့သူ မြို့သား အပေါင်းတို့ထံမှ၊
တံခါးစောင့် လေဝိသားတို့ခံသောငွေကို ယူ၍-
၁၀ ဗိမာန်တော်ကိုကြည့်ရှုပြုစုသောသူတို့၌ အပ်
သဖြင့်၊ သူတို့သည် ဗိမာန်တော်ကို ပြုပြင်ခြင်း
၁၁ ငှါလုပ်ဆောင်သောသူ၊- ဗိသုကာနှင့်လက်သ
မားတို့သည်အတွက်၊ ယုဒရှင်ဘုရင် ဖျက်ဆီး
သော အဆောင် တို့ကို ဖွင့်စရာတို့၊ ဆစ် သော
ကျောက် များ နှင့် တုပ် လျှောက် ရနယ် များ၊ ကို

၁၂ ဝယ်သည်အတွက်ပေးကြ၏။-ထိုလုပ်ဆောင်သော
သူတို့သည် သစ္စာစောင့်ကြ၏၊ လေဝိအမျိုး မေ
ရာရိအနွယ်၊ ယာဟတ်နှင့်ဩဗဒိ၊ ကောဟတ်
အနွယ်ထဲ၊ ဇာခရိနှင့်မေရှုလံအစရှိသောသူတို့အ
မှူးကိုတိုက်တွန်းလျက်၊ သီချင်းဆိုတတ်သောလေ
ဝိသား အပေါင်း၊ တို့သည် ကြည့်ရှုနှိုးဆော်ကြ
၁၃ ၏။ ထိုသူတို့သည် ဝန်ထမ်းသောသူမှစ၍၊ အ
ထုပ်မျိုးကို လုပ်ဆောင်သော လူအပေါင်းတို့ကို
ကြည့်ရှုအုပ်ချုပ်ကြ၏၊ လေဝိသားအချို့တို့သည်
စာရေး၊ စာရေးသူကြီး၊ တံခါးစောင့် လုပ်
ကြ၏။
၁၄ ဗိမာန်တော်သို့ ဆောင်ခဲ့သော ငွေကို ထုတ်
သောအခါ၊ ယဇ်ပရောဟိတ်ဟိလခိသည်မော
ရှေ ရေး ထား သော ထာ ဝရ ဘုရား ၏ ပညတ်
၁၅ ကျမ်း စာစောင်ကို တွေ့၍- တွေ့ကြောင်းကို စာ
ရေးတော်ရှာဖန်အားပြောလျက်ထိုကျမ်းစာကို
၁၆ အပ်ပေး၏။-ရှာဖန်သည်ရှင်ဘုရင်ထံသို့ယူသွား
၍၊ ကိုယ်တော်ကျွန်တို့သည် မှာထားတော်မူသ
၁၇ မျှ အတိုင်း ပြုကြပါ၏။- ဗိမာန်တော်၌ တွေ့
သောငွေကို ထုတ်၍၊ အုပ်ချုပ်သော သူနှင့် လုပ်
၁၈ ဆောင်သောသူတို့၌ အပ်ပါပြီဟု၍ငှင်- ယဇ်ပ
ရောဟိတ်ဟိလခိသည်ကျွန်တော်၌ စာစောင်ကို
အပ်ပါပြီဟု၍ငှင်၊ ကြားလျှောက် လျှောက်ရှင်ဘု
၁၉ ရင်ရှေ့တော်၌ဖတ်ရွတ်လေ၏။-ရှင်ဘုရင်သည်
တရားစကားကို ကြားလျှင်၊ မိမိအဝတ်ကိုဆုတ်
၂၀ ၍- ယဇ်ပရောဟိတ်ဟိလခိ၊ ရှာဖန်သားအဟိ
ကံ၊ မိက္ခာသား အာဗဒုန်၊ စာရေး တော် ရှာဖန်၊
၂၁ မိမိ ကျွန် အသာယကို ခေါ်၍- သင်တို့သွား၍
ကျမ်းစကားကြောင့်အတွက်၊ ဣသရေလပြည်
နှင့် ယုဒပြည်၌ ကျန်ကြွင်းသေးသော လူတို့အ
တွက်၊ ထာဝရဘုရား၌ မေးလျှောက်ကြပါ၊ ဘိုး
ဘေးတို့သည် ထာဝရ ဘုရား၏ စကား တော်ကို
နားမထောင်၊ ဤကျမ်းစာ၌ ရေးထားသမျှအ
တိုင်းမကျင့်ဘဲ နေသောကြောင့်၊ ထာဝရဘုရား
သည်ငါတို့၌ ပြင်းစွာအမျက် ထွက်တော်မူပြီဟု
၂၂ မဥ္စတုမိန့်တော်မူ၏။-ထိုကာလတွင်၊ ဟသရ၏
သားဖြစ်သော တိက္ကဝ၏သား၊ အရှုပ်ဝန်ရှလ္လုံ
၏မယား၊ ပရောဖက်မ ဟုလဒါသည်ယေရုရှလင်
မြို့၌နေသည်ဖြစ်၍၊ ဟိလခိနှင့်ရှင်ဘုရင်၏လူတို့
၂၃ သည်ထိုမိန်းမထံသို့သွား၍ ပြောဆိုကြ၏။- မိန်းမ
သည်၊ ငါ့ထံသို့ စေလွှတ် သော သူထံသို့ သင်တို့
ပြန်၍ ဆင့်ဆိုရသော ဣသရေလအမျိုး၏ဘုရား

အခင်ထာဝရဘုရား၏ အမိန့်တော်တူမူကား—
၂၄ ထိုစရပ်နှင့်ဘုရင်ရှေ့မှာဖတ်ရသောကျမ်းစောင်၌ရေး
ထားသမျှသောအကျိန်စကားပြည့်စုံစေခြင်းငှါ၊
ငါသည် ဤအရပ်၌၎င်း၊ ဤအရပ်သားတို့၌၎င်း
၂၅ ဘေးရောက်စေမည်။— အကြောင်းမူကား၊ လူတို့
သည်ငါ့ကိုစွန့်ကြပြီး၊ မိမိတို့လုပ်သောအရာတို့ဖြင့်၊
အမျက်ကိုနှိုးဆော်ခြင်းငှါ၊ အခြားတပါးသော
ဘုရားတို့ရှေ့မှာ နံ့သာပေါင်းကိုမီးရှို့ကြပြီ။ ထို
ကြောင့်ဤအရပ်၌ ငါ့အမျက်မီးသည် မငြိမ်းသဲ့
၂၆ တောက် ရထိုက်မည်ဟု မိန့် တော် မူ၏။— ထာဝရ
ဘုရားကိုမေးလျှောက်စေခြင်းငှါ၊ သင်တို့ကိုစေ
လွှတ် သော ယုဒ ရှင် ဘုရင် ကြား သော ကျမ်း
စကား ကို ရည် ဆောင်၍၊ ဣသရေလ အ မျိုး ၏
ဘုရားသခင် ထာဝရဘုရား မိန့်တော်မူကြောင်း
ကို၊ ထိုရှင်ဘုရင်အားထပ်၍ ပြန်လျှောက်ရမည်
၂၇ ကား၊— ဤအရပ်ကို၎င်း၊ ဤအရပ်သားတို့ကို၎င်း၊
ငါ ပြစ်မှားခြောက်သော်စကားကို သင်သည်ကြား
သော အခါ၊ နူးညံ့သော စိတ်ရှိ၍၊ ဘုရား သခင်
ရှေ့တော်၌ ကိုယ်ကိုနှိမ့်ချခြင်း၊ ကိုယ်အဝတ်ကို
ဆုတ် ခြင်း၊ ငါ့ရှေ့ မှာ ငိုကြွေး ခြင်းကို ပြုသော
၂၈ ကြောင့်၊ သင့်စကားကို ငါ နား ထောင် ၏။— ငါ
သည်သင့်ကို ဘိုးဘေးရှိ ဝေးရာသို့ ပို့ဆောင်၍၊
သင်သည် ငြိမ် ဝပ် စွာ သင်္ချိုင်း သို့ ရောက်ရ
လိမ့်မည်။ ဤအရပ်၌၎င်း၊ ဤအရပ်သားတို့၌၎င်း၊
ငါရောက်စေ ဘဲ့သောဘေးကို၊ သင့်ကိုယ်တိုင်မ
တွေ့မမြင်ရဟု၊ မိန့်တော် မူကြောင်းကို ဆင့်ဆို
သည်အတိုင်း၊ သူတို့သည် ရှင် ဘုရင်အား ပြန်
လျှောက်ကြ၏။
၂၉ ထိုအခါရှင်ဘုရင်သည်ယုဒပြည်သူ၊ ယေရုရှ
လင်မြို့သားအသက်ကြီးသူ အပေါင်းတို့ကိုခေါ်
၃၀ ၍- ယုဒ ပြည် သူ၊ ယေရု ရှ လင် မြို့ သား၊ ယဇ်
ပုရောဟိတ်၊ လေဝိသား၊ လူ အကြီး အငယ်အ
ပေါင်း တို့ နှင့် တကွ၊ ဗိမ္မာန် တော် သို့ တက်၍၊
ဗိမ္မာန်တော်၌ တွေ့သော ပဋိညာဉ် ကျမ်းစာရှိ
၃၁ သမျှကို သူတို့ရှေ့မှာ ဖတ်တော်မူ၏။— ရှင်ဘုရင်
ကလည်း၊ ထာဝရဘုရားကိုဆည်းကပ်ပါမည်။ မိ
ရင်ထုံး ဓလေ့ထုံးစံ ပညတ် တရား ကို၊ စိတ် နှလုံး အ
ကြွင်းမဲ့ စောင့် ရှောက် ပါမည်၊ ဤ ကျမ်း စာ၌ ပါ
သော ပဋိညာဉ် စကား အတိုင်း ကျင့်ပါမည် ဟု
၃၂ မိမိနေရာ၌ရပ်၍ အဓိဋ္ဌာန်ပြု၏။ ဗင်္ယာမိန်သော
ယုဒအမျိုးနှင့်ဗင်္ယာမိန်အမျိုးသားအပေါင်းတို့
သည်၊ ထိုအဓိဋ္ဌာန်ကိုဝန်ခံရမည်အကြောင်း၊ မိ

ရင် တော်မူ၏။ ယေရုရှလင် မြို့သားတို့ သည်
လည်း၊ ဘိုးဘေးတို့ကိုးကွယ်သောဘုရားသခင်
၃၃ ၏ပဋိညာဉ် တရားအတိုင်းကျင့်ကြ၏။— ယောရှိ
မင်းသည်လည်း၊ ဣသရေလအမျိုးသားတို့ ပိုင်သောပြည်အ
ရပ်ရပ်တို့မှ ပယ်ရှား၍၊ ဣသရေလ ပြည်၌ ရှိ
သောသူ အပေါင်းတို့သည်၊ မိမိတို့ ဘုရား သခင်
ထာဝရဘုရားကို ဝတ်ပြုရမည် အကြောင်း၊ ဝိ
ရင်တော်မူသဖြင့်၊ ထိုမင်းတော် ကာလပတ်
လုံး၊ သူတို့ သည် မခေါက် ပြန်၊ ဘိုးဘေး တို့၏
ဘုရား သခင် ထာဝရ ဘုရား နောက် တော် သို့
လိုက်လျှောက်နေကြ၏။

၃၅

၁ ထိုနောက်ယောရှိမင်းသည်ယေရုရှလင်မြို့၌ ထာ
ဝရဘုရားအဖို့ပသခါပွဲကိုခံတော်မူ၍ပဌမလ၊
တဆယ် လေးရက် နေ့ တွင်၊ ပသခါ ထိုးသငယ်
၂ ကိုသတ်ကြ၏။— ယဇ်ပုရောဟိတ် တို့ကို မိမိတို့
အရာ၌ခန့်ထား၍၊ ဗိမ္မာန်တော်အမှုကို ဆောင်
၃ စေခြင်းငှါ နှိုးဆော် တော်မူ၏။— ဣသရေလ အ
မျိုး ရှိသမျှကို ဆုံးမ၍၊ ထာဝရ ဘုရား အဖို့
သန့်ရှင်းသော လေဝိသား တို့ကို ခေါ်၍၊ ဣသ
ရေလ ရှင် ဘုရင် ဒါဝိဒ် သား ရှောလမုန် တည်
ဆောက် သော အိမ်၌၊ သန့်ရှင်းသော သေတ္တာ
တော်ကို သွင်းထားကြလော့၊ နောက်တဖန်ထမ်း
ထားစရာကို မထမ်းဘဲ၊ သင်တို့၏ ဘုရား သခင်
ထာဝရဘုရား၏အမှု၊ ဘုရားသခင်၏လူဣသရေ
၄ လအမျိုး၏ အမှုကိုထမ်းကြလော့။— ဣသရေလ
ရှင်ဘုရင် ဒါဝိဒ်မှတ်စာ၊ သားတော် ရှောလမုန်
မှတ်စာနှင့် အညီ သင်းခွဲသည်အတိုင်း၊ အဆွေ
၅ အမျိုး အလိုက်ကိုယ်ကိုပြင်ဆင်၍- ပြည်သူပြည်
သား ဖြစ်သော သင်တို့ညီအစ်ကိုအစုတို့ အဆွေ
အမျိုးနှင့်၊ လေဝိသားအဆွေအမျိုး အသီးအသီး
နေရာရှိသည်အတိုင်း၊ သန့်ရှင်းရာ ဌာနတော်၌
၆ ရပ်နေ ကြလော့။- ထိုသို့ပသခါ ထိုးသငယ်ကို
သတ်၍၊ ကိုယ်ကိုသန့်ရှင်းစေကြလော့၊ သင်တို့
ညီအစ်ကို တို့သည် မောရှေ အား ဖြင့်၊ ထာဝရ
ဘုရား မှာထားတော်မူသည်အတိုင်း ပြုစေခြင်း
ငှါ၊ သူတို့ကိုလည်းပြင်ဆင်ကြလော့ဟု မိန့်တော်
၇ မူ၏။ စည်းစိမ်ဥစ္စာ သောသူအပေါင်းတို့သည်ပသခါ
ပွဲခံစရာဘို့၊ ယောရှိမင်းသည် မိမိဥစ္စာ၊ သိုးသငယ်၊
ဆိတ်သငယ်သုံးသောင်းနှင့် နွားသုံးထောင်
၈ ကိုပေးတော်မူ၏။—မှူးမတ်တို့သည်လည်း၊ စေတ

နာမိတ်ရှိ၍လူများ၊ယဇ်ပရောဟိတ်၊လေဝိသား
တို့အားပေးကြ၏။ဗိမာန်တော်မှူး၊ဟိလကိ၊ဇာ
ခရိ၊ယေဟေလသည်လည်း၊ပသခါပွဲခံစရာအို့၊
သိုးဆိတ်နှစ်ထောင်ခြောက်ရာနှင့်နွားသုံးရာကို
၉ ယဇ်ပရောဟိတ်တို့အားပေးကြ၏။-လေဝိသား
အကြီးအကဲ၊ကောနနိ၊ရှေမာယ၊ထာရှဘိ၊ယေ
ယေလ၊ယောဇဗဒ်၊ နာသနေလနှင့်သူ၏ညီများ
တို့သည်လည်း၊ပသခါပွဲခံစရာအို့၊သိုးဆိတ်ငါး
ထောင်နှင့်နွားငါးရာကိုလေဝိသားတို့အားပေး
၁၀ ကြ၏။- ထိုသို့ရှင်ဘုရင် အမိန့် တော် အတိုင်း၊
ဝတ်ပြုစရာပြင်ဆင်၍၊ ယဇ်ပရောဟိတ်တို့သည်
မိမိတို့နေရာ၌ ရပ်၍၊ လေဝိသား တို့သည် မိမိတို့
၁၁ အမှုကိုဆောင်ရွက်ကြ၏။- ပသခါ သိုးသငယ်
ကိုသတ်၍၊ ယဇ် ပရောဟိတ်တို့သည် အသွေး
ကိုထက်နှင့် ဖြန်းလျက်၊ လေဝိသားတို့သည် အ
၁၂ ရေကိုခွာလျက်ပြုကြ၏။-မောရှေ၏ကျမ်း၌ရေး
ထားသည်အတိုင်း၊ ထာဝရဘုရားအားပူဇော်
စရာအို့၊ လူများအဆွေအမျိုးအလိုက် အသီးအ
သီးတို့အား ပေးဝေခြင်းငှါ၊ မီးရှို့ရာ ယဇ် များ
၁၃ နှင့်နွားများကိုခွဲထားကြ၏။-ထုံးဖွဲ့တော်မူသည်
အတိုင်း၊ပသခါသိုးသငယ်ကိုမီးနှင့်ကင်ကြ၏။
သန့်ရှင်းသော ပူဇော် သက္ကာ အခြားတို့ကို မြေ
အိုး၊ ထံအိုး၊ သံကရား၌ပြုတ်၍၊ လူအပေါင်းတို့
၁၄ အား အလျင်အမြန် ဝေဖန်ကြ၏။- ထိုနောက်မှ၊
ကိုယ်အဖို့နှင့် ယဇ်ပရောဟိတ် အဖို့ကို ပြင်ဆင်
ကြ၏။ အာရုန်သား ယဇ်ပရောဟိတ် တို့သည်၊
ညဦးတိုင်အောင်မီးရှို့ရာယဇ်နှင့်ဆီဥကိုပူဇော်
လျက် နေရသောကြောင့်၊ လေဝိသား တို့သည်
ကိုယ်အဖို့ကိုငှင်၊အာရုန်သားယဇ်ပရောဟိတ်
၁၅ အဖို့ကိုငှင်ပြင်ဆင်ကြ၏။- ဒါဝိဒ်နှင့် ရှင်ဘုရင်၏
ပရောဖက် အာသပ်၊ ဟေမန်၊ယေဒုသုန်တို့ စီရင်
သည်အတိုင်း၊အာသပ်အမျိုးသား၊သီချင်းသည်
တို့သည် မိမိတို့နေရာ၌ ရှိကြ၏။ တံခါးစောင့်တို့
သည် မိမိတို့ အမှုကိုမရှောင်၊ တံခါး ရှိသမျှ တို့
ကိုစောင့်ကြ၏။ သူတို့ညီအစ်ကို လေဝိ သား တို့
၁၆ သည်၊ သူတို့အဖို့ပြင်ဆင်ကြ၏။- ထိုသို့ယောရှိ
မင်းကြီးမိန့်တော်မူသည့်အတိုင်း၊ပသခါပွဲကိုခံ
၍၊ ထာဝရဘုရား၏ ယဇ်ပလ္လင်ပေါ်မှာမီးရှို့ရာ
ယဇ်တို့ကို ပူဇော်ခြင်းငှါ၊ ထာဝရဘုရားအား
ပြုရသော ဝတ် အလုံးစုံကို၊ ထိုနေ့ ၌ပင် ကျင်း ပြင်
၁၇ ဆင်ကြ၏။- စည်းဝေးသော ဣသရေလ အမျိုး
သားတို့သည်၊ ထိုအခါ ပသခါပွဲကိုလည်း၊ တဆေးမ

၁၈ ဲ့ပွဲကိုငှင်၊ခုနစ်ရက်ပတ်လုံးခံကြ၏။-ယောရှိမင်း
နှင့်ယဇ်ပရောဟိတ်၊လေဝိသား၊စည်းဝေးသော
ယုဒပြည်၊ ဣသရေလ ပြည်သား၊ ယေရုရှလင်
မြို့သား အပေါင်းတို့ ခံသော ထိုပသခါ ပွဲကဲ့သို့
သော ပွဲကို၊ပရောဖက် ရှမွေလ လက်ထက်မှစ၍
ဣသရေလ နိုင်ငံ၌မခံ။ ထိုသို့သော ပသခါ ပွဲကို
၁၉ ဣသရေလ ရှင်ဘုရင် တစ်ယောက်မျှမခံ။- ယော
ရှိမင်း နန်းစံ ဆယ့် ရှစ်နှစ်တွင်၊ ထိုပသခါ ပွဲကို
ခံကြ၏။
၂၀ ထိုနောက်မှ၊ယောရှိသည်ဗိမာန်တော်ကိုပြင်
ဆင် ပြီးမှ၊ အဲဂုတ္တု ရှင်ဘုရင် နေခေါ သည် ဥ
ဖရတ်မြစ်နား၊ ခါခေမိတ်မြို့သို့ စစ်ချီ သည် တွင်၊
ယောရှိမင်းသည်ဆီးတားခြင်းငှါထွက်လေ၏။-
၂၁ အဲဂုတ္တု ရှင်ဘုရင်က၊ ယုဒ ရှင် ဘုရင်၊ သင်
သည်ငါနှင့်အဘယ်သို့ဆိုင်သနည်း။ သင့်ကိုတ
ရန်ငါစစ်ချီသည်မဟုတ်။ ငါနှင့် စစ်တိုက်ဘက်
ဖြစ်သော အမျိုးကို စစ်ချီ၏။ ငါအလျင်အမြန်ပြု
မည်အကြောင်း၊ ဘုရားသခင်မှာထားတော်မူပြီ။
ငါ့ဘက်၌ ရှိသောဘုရားသခင်ကိုဆန့်ကျင်ဘက်
မပြုဘဲ နေလော့။ သို့မဟုတ်၊ သင့်ကို ဖျက်ဆီး
တော်မူမည်ဟု သံတမန်ကို စေလွှတ်၍မှာလိုက်
၂၂ လေ၏။- သို့ရာတွင်၊ ယောရှိသည် မလှည့်မရှောင်
နေခေါဆင့်ဆိုသောဘုရားသခင်၏ အမိန့်တော်
ကိုနားမထောင်၊စစ်တိုက်ခြင်းငှါ၊ခြားနားသော
အရောင်ကိုဆောင်လျက်၊ မေဂိဒ္ဒေါချိုင့်၌ စစ်ခွဲ
၂၃ ထဲသို့ဝင်လေ၏။-လေးသမားတို့သည်ယောရှိမင်း
ကြီးကိုပြစ်၍မှန်သဖြင့်၊မင်းကြီးက၊ငါ့ကိုဆောင်
သွားလော့။ ပြင်းစွာ အထိအခိုက် ခံရသည် ဟု
၂၄ ကျွန်တို့အားဆိုလျှင်-ကျွန်တို့သည်ရထားတော်
ပေါ်ကချ၍၊ ဒုတိယရထားတော်ပေါ်၌ တင်ပြီး
လျှင်၊ယေရုရှလင်မြို့သို့ဆောင်သွားသောအခါ၊
အနိစ္စရောက်၍ ဘိုးတော်တို့ သင်းချိုင်း၌၊ သင်း
ဂြိုဟ်ခြင်းကိုခံလေ၏။ယုဒပြည်သူ၊ယေရုရှလင်
မြို့ သား အပေါင်းတို့ သည်၊ ယောရှိ မင်း အနိစ္စ
ရောက်သောကြောင့်၊ ငိုကြွေး မြည်တမ်း ခြင်း
၂၅ ကိုပြုကြ၏။- ယေရမိ သည် လည်း၊ မြည်တမ်း
သောစကားကိုစီရင်၍ သီချင်းသည်ယောက်ျား
မိန်းမရှိသမျှ တို့သည်၊ ယနေ့ တိုင်အောင် ယောရှိ
မင်းကို အောက်မေ့ လျက်၊ ထိုမြည် တမ်း သော
စကားကိုသုံးဆောင်သဖြင့် ဣသရေလထုံးစံဖြစ်
လေ၏။ ထိုစကားသည်မြည်တမ်းအဘွဲ့ရေးထားသော
လျက်ရှိသတည်း။

၂၆ ယောရှိပြုမူသော အမှုအရာကြွင်း၊ ထိုသူ
ထို့နှင့်၊ ထာဝရဘုရား၏ပညတ်ကျမ်း၌ရေးထား
၂၇ သည် အတိုင်း ကျေးဇူး ပြုခြင်း၊- အကျင့်ကျင့်
ခြင်းအရာအစအဆုံးတို့သည်၊ ဣသရေလရာဇ
ဝင်နှင့်ယုဒရာဇဝင်၌ရေးထားလျက်ရှိ၏။

၃၆

၁ ပြည်သူပြည်သားတို့သည်ယောရှိသားယော
ခတ်ကိုယူ၍၊ ယေရုရှလင်မြို့မှာခမည်းတော် အ
၂ ရာ၌ နန်းတင်ကြ၏။- ယောခတ်သည် အသက်
နှစ်ဆယ် သုံးနှစ် ရှိ သော်၊ နန်း ထိုင်၍ ယေရုရှ
၃ လင်မြို့၌ သုံးလ မိုးစံလေ၏။- ထိုမင်းကိုအဲဂုတ္တု
ရှင်ဘုရင်သည် ယေရုရှလင်မြို့မှာနန်းချ၍၊ ယုဒ
ပြည်၌ ငွေ အခွက် တရာ နှင့် ရွှေ အခွက်တ
၄ ဆယ်ကို အခွန်တောင်းလေ၏။- အဲဂုတ္တုရှင်ဘု
ရင်နေခေါသည်လည်း၊ ယောခတ်၏နောင်တော်
ဧလျာကိမ်ကိုယုဒပြည်ယေရုရှလင်မြို့နန်းတော်
ပေါ်မှာတင်၍၊ ယောယကိမ်အမည်သစ်ကိုပေး
ပြီးလျှင်၊ ညီတော်ယောခတ်ကိုအဲဂုတ္တုပြည်သို့
ယူသွား၏။

၅ ယောယကိမ်သည် အသက် နှစ်ဆယ် ငါးနှစ်
ရှိသော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌တဆယ်တ
နှစ်မိုးစံလေ၏၊ ထိုမင်းသည်မိမိဘုရားသခင်ထာ
၆ ဝရ ဘုရား ရှေ့ တော် ၌ ဒုစရိုက် ကို ပြု ၏။- ထို
ကြောင့်၊ ဗာဗုလုန် ရှင် ဘုရင် နေဗုခဒ်နေဇာ
သည် ချီလာ၍၊ ဗာဗုလုန်မြို့သို့ ယူသွားခြင်းငှါ
၇ သံကြိုးဖြင့် ချည်နှောင်လေ၏။- ဗိတ်မှန် တော်
တန်ဆာအချို့တို့ကိုလည်းယူသွား၍၊ဗာဗုလုန်
၈ မြို့ဗိမာန်၌ ထားလေ၏။- ယောယကိမ် ပြုမူ
သောအမှုအရာကြွင်းလေသမျှတို့နှင့်၊ပြုမိသော
ရွံရှာဖွယ် အမှု၊ ထင်ရှားသော မိတ်သဘော
သည်၊ဣသရေလရာဇဝင်နှင့်ယုဒရာဇဝင်၌ရေး
ထားလျက်ရှိ၏၊ သားတော် ယေခေါနိသည်ခ
မည်းတော်အရာ၌နန်းထိုင်၏။

၉ ယေခေါနိသည် အသက် တဆယ် ရှစ်နှစ် ရှိ
သော်၊ နန်းထိုင်၍ ယေရုရှလင် မြို့၌ သုံးလနှင့်
ဆယ်ရက် မိုးစံ လေ၏၊ ထိုမင်းသည် ထာဝရ
၁၀ ဘုရား ရှေ့တော်၌ ဒုစရိုက်ကို ပြု ၏။- နှစ်ထည်
သောအခါ၊ နေဗုခဒ်နေဇာမင်းကြီးသည် စေလွှတ်
၍၊ ထိုမင်းနှင့်တကွကောင်းမွန်သောဗိတ်မှန်
တော်တန်ဆာတို့ကို၊ ဗာဗုလုန်မြို့သို့ ယူသွား၍၊
အစ်ကိုတော်ဇေဒကိကို၊ယုဒပြည်ယေရုရှလင်
မြို့နန်းတော်ပေါ်မှာတင်လေ၏။

၁၁ ဇေဒကိသည်အသက်နှစ်ဆယ်တနှစ်ရှိသော်၊
နန်းထိုင်၍ ယေရုရှလင်မြို့၌တဆယ်တနှစ်မိုးစံ
၁၂ လေ၏။- ထိုမင်းသည်လည်း၊ မိမိဘုရားသခင်
ထာဝရဘုရား ရှေ့တော်၌ ဒုစရိုက်ကိုပြု၏၊ ထာ
ဝရဘုရား၏ အမိန့်တော်ကို ဆင့်ဆိုသောပရော
၁၃ ဖက် ယေရမိ ရှေ့မှာ ကိုယ်ကို မနှိမ့်ချ။- ဘုရား
သခင်အကျိန်တိုက်ပြီးသော နေဗုခဒ်နေဇာမင်း
ကြီးကိုပုန်ကန်လေ၏၊ဣသရေလအမျိုး၏ဘုရား
သခင် ထာဝရ ဘုရား ထံ တော် သို့ မပြန်မည် အ
ကြောင်း၊ မိမိသည်ပင်းကိုငှင်၊ မိမိနှလုံးကိုငှင်
၁၄ ခိုင်မာစေ၏။- ထိုမှတပါး၊ ယဇ်ပုရောဟိတ် အ
ကြီးများနှင့် ပြည်သူပြည်သားမှီသမျှတို့သည်၊
တပါးအမျိုးသား ရွံရှာဖွယ် ပြုသည် အတိုင်း
အလွန်ပြစ်မှားကြ၏၊ ယေရုရှလင်မြို့၌ ထာဝရ
ဘုရား သန့်ရှင်းစေတော် မူသော ဗိတ်မှန်တော်
၁၅ ကို ညစ်ညူးစေ ကြ၏။- ထိုးဘေး ထို၏ ဘုရား
သခင်ထာဝရဘုရားသည်၊ မိမိလူမျိုးနှင့် မိမိနေ
တော်မူရာ အရပ်ကို သနားသောကြောင့်၊ စော
စောထ၍ အထပ်ထပ် စေလွှတ် သော တမန် တို့
၁၆ အားဖြင့်၊ မှာထိုက်တော် မူသော်လည်း၊- ဘုရား
သခင်၏ တမန်တို့ကို ပြက်ရယ်ပြု၍ အမိန့်တော်
ကိုနားမထောင်၊ ပရောဖက်တော်တို့ကိုညှဉ်းဆဲ
သောကြောင့်၊ ထာဝရဘုရား၏အမျက်တော်မ
၁၇ ပြေမငြိမ်းနိုင်အောင်၊ မိမိလူမျိုးကို ထွက်သဖြင့်- ခါ
လဒဲရှင်ဘုရင်ကိုစစ်ချီစေတော်မူ၏၊ထိုရှင်ဘုရင်
သည် သန့်ရှင်းရာ ဌာနအိမ်တော်၌၊ လုလင်တို့ကို
ထားနှင့်သတ်၏၊ ယောက်ျားပျို၊ မိန်းမပျို၊ လူအို၊
အသက်ကြီး၍ ကြေကျန်းသော လူတို့ကိုမစ
သနား၊ ရှိသမျှတို့ကို၊ ထိုရှင်ဘုရင်လက်သို့အပ်
၁၈ တော်မူ၏။- ဗိတ်မှန် တော်တန်ဆာ အကြီး အ
ငယ်ရှိသမျှတို့ကိုငှင်၊ ဗိတ်မှန်တော်ဘဏ္ဍာ၊ နန်း
တော် ဘဏ္ဍာ၊ မှူးမတ် ဘဏ္ဍာ ရှိသမျှ တို့ကိုငှင်၊
၁၉ ဗာဗုလုန် မြို့သို့ ယူသွား၏။- ဗိတ်မှန် တော် ကို
သည်းမီး ရှို့၍၊ ယေရုရှလင် မြို့ရိုးကို ဖြိုဖျက်ကြ
၏၊ မင်းအိမ်ရှိသမျှတို့ကိုလည်း မီးရှို့၍၊ မြတ်နိုး
စရာကောင်းသောအမြတ်ရှိသမျှတို့ကို ဖျက်ဆီးကြ
၂၀ ၏။- ထားဘေး နှင့် လွတ်သော သူ တို့ကို၊ ဗာဗု
လုန်မြို့သို့သိမ်းသွား၍၊သူတို့သည်ပေရသိနိုင်ငံ
မတည်မှီ တိုင်အောင် ရှင်ဘုရင်ထံ၊ သား တော်
၂၁ မြေးတော်ထံ၌ကျွန်ခံလျက်နေရကြ၏။- ထိုသို့ဣ
သရေလ မြေသည် ဥပုသ်နေ့ တို့ကို ခံစားစေ
ခြင်းငှါ၊ ယေရမိ ဆင့်ဆိုသော ထာဝရ ဘုရား၏

အမိန့်တော်သည် ပြည့်စုံရ၏၊ ထိုပြည်သည် ထုံ
ဆိတ်ညံ့လျှော့ထ်နေသောကာလ၊ အနှစ်ခုနှစ်ဆယ်
နေ့ရောက်ရာ၏ ရှိရှိ ၌ နေ့ထိုရှိကို ဆောင့်သော အနှင့်၌
ထသည်။

ရာဇဝင်ချုပ်ဒုတိယစောင်ပြီး၏။

# ဧဇရမှတ်စာ၊

# BOOK OF EZRA

၁

၁ ၊ပေရသိ ဆင့်ဆိုသော ယေရမိအာတရောဂျာ၏ အမိန့်
တော်ကိုပြည့်စုံစေခြင်းငှါ၊ ပေရသိရှင်ဘုရင်ကု
ရုနန်းစံ ပဌမနှစ်တွင်၊ ထာဝရ ဘုရား နှိုးဆော်
တော်မူသောအားဖြင့်၊ ထိုရှင်ဘုရင်သည်အမိန့်
တော်စာကို ထုတ်ပြီး လျှင်၊ ပေရသိ နိုင်ငံ အရပ်
၂ ရပ်ထိုတွင်ကျော်ညာစေ၍- ပေရသိရှင်ဘုရင်ကုရု
မင်းမိန့်တော်မူသည်ကား၊ ကောင်းကင်ဘုံ၏အ
ရှင်ဘုရား သခင် ထာဝရ ဘုရားသည်၊ မြေကြီး
ပေါ်မှာ ထိုင်းနိုင်ငံရှိသမျှတို့ကို ငါ့အားပေးတော်
မူသည်ဖြစ်၍၊ ယုဒပြည်ယေရုရှလင်မြို့၌၊ အိမ်
တော်ကိုငါတည်ဆောက်ရမည် အကြောင်းမှာ
၃ ထားတော်မူပြီ- ထင်ထိုတွင် အထက်ထုထည်
ဘုရား သခင်၏ လူဖြစ် သနည်း၊ ထိုသူနှင့် အထူ
ထုရားသခင်ရှိတော်မူပါစေသော၊ ယုဒပြည်ယေ
ရုရှလင်မြို့သို့သွား၍၊ ဣသရေလအမျိုး၏ဘုရား
သခင် ထာဝရ ဘုရား ၏ အိမ် တော် ကို တည်
ဆောက် စေ၊ ယေရု ရှလင် မြို့၌ ရှိတော် မူသော
၄ ဘုရားသည်၊ ဘုရားသခင်ဖြစ်တော်မူ၏-ဘုရား
သခင်၏ လူတည်းမိုရာ အရပ်ရပ်၌ နေသောသူ
တို့သည်၊ ယေရုရှလင်မြို့မှာရှိတော်မူသောဘုရား
သခင်၏အိမ်တော်အဖို့၊ အလိုလိုလှူသောအလှူ
ထပါး၊ ရွှေ၊ ငွေ၊ ဥစ္စာ၊ တိရိစ္ဆာန်နှင့်မစစေထုမိန့်
တော်မူ၏။
၅ ထိုအခါ ယုဒအဆွေအမျိုးနှင့်ဗင်္ယာမိန်အဆွေ
အမျိုးသူကြီးများ၊ ယဇ်ပုရောဟိတ်လေဝိသား
များနှင့် ထကွ၊ ဘုရား သခင် နှိုးဆော် တော်မူ
သောသူ အပေါင်း တို့သည်၊ ယေရုရှလင် မြို့၌ ရှိ
တော်မူသောထာဝရဘုရား၏အိမ်တော်ကိုတည်
၆ ဆောက်ခြင်းငှါထကြ၏- အိမ်နီးချင်းရှိသမျှတို့
သည်၊ အလိုလိုလှူသော အလှူမှတပါး၊ ငွေတန်
ဆာနှင့်ရွှေ အစရှိသောဥစ္စာများ၊ တိရိစ္ဆာန်များ
၇ အထိုးထိုက်သောအရာတို့နှင့်မစကြ၏- ထိုမှတ
ပါး၊ ယေရုရှလင်မြို့မှနေဗုခဒ်နေဇာသိမ်းသွား
၍၊ မိမိဘုရား၊ ထိုမိတ်မှန်၌ သွင်းထားသောမိတ်
၈ မှန်တော်တန်ဆာတို့ကို- ပေရသိရှင်ဘုရင် ကုရု
သည်ဘဏ္ဍာထိုက်မိုးမိသရေဒတ်ထတ်ဖြင့်ထုတ်၍၊
ယုဒမင်းရှေရှဗာဇာနွှဲရေတွက်အပ်တော်
၉ မူ၏- မိတ်မှန်တော်တန်ဆာ စာရင်း ဟူမူကား၊
ရွှေဇလားသုံးဆယ်၊ ငွေဇလားတထောင်၊ ထား
၁၀ နှစ်ဆယ် ကိုးစင်း၊- ရွှေဖိုးသုံးဆယ်၊ ခြားနား
သော ငွေ ဖိုး လေး ရာ တဆယ်၊ အခြား သော
၁၁ တန်ဆာ တထောင်၊- ရွှေ တန်ဆာ၊ ငွေတန်ဆာ
အရေ အတွက်ပေါင်းကား၊ ငါးထောင်လေးရာ
တည်း။ ထို တန်ဆာ များ ကို ရှေရှဗာဇာ ဆောင်
ထု၍၊ အကျဉ်းခံရသော သူတို့ကား၊ ဗာဗုလုန်မြို့
မှယေရုရှလင်မြို့သို့ ခေါ်သွားသောသူတို့နှင့် အ
တူဆောင်ခဲ့၏။

၁ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည်၊ ဗာ
၂ ဗုလုန်မြို့သို့ သိမ်းသွားသော သူတို့ထဲကထွက်၍
ဇေရုဗဗေလ၊ ယောရှု၊ နေဟမိ၊ သရာယ၊ ရေလာ
ယ၊ မော်ဒကဲ၊ ဗိလရှန်၊ မိဇပါ၊ ဗိဂဝဲ၊ ရေဟုံ၊ ဗာ
နာတို့နှင့်အတူ လိုက်လာ၍၊ ယေရုရှလင်မြို့ အစ
ရှိသော ယုဒပြည်၌ အသီးသီး ဆိုင်သောမြို့ရွာ
တို့ရောက် သော နိုင်ငံ တော်သား၊ ဣသရေလ လူ
၃ စာရင်း ဟူမူကား၊- ပါရုတ် အမျိုး သား နှစ်
၄ ထောင်တရာခုနစ်ဆယ်နှစ်ယောက်၊-ရှေဖတိအ



 

၅ မျိုးသားသုံးရာခုနစ်ဆယ်နှစ်ယောက်၊- အာရ
၆ အမျိုးသားခုနစ်ရာခုနစ်ဆယ်ငါးယောက်၊- ပါ
ဟတ်မောဘအမျိုး၊ ယောရှု ယွာဘအမျိုးသား
၇ နှစ်ထောင် ရှစ်ရာ တဆယ် နှစ်ယောက်၊- ဧလံ
အမျိုးသား တထောင် နှစ် ရာ ငါး ဆယ် လေး
၈ ယောက်၊- ဇတ္တုအမျိုးသား ကိုးရာလေးဆယ်
၉ ငါးယောက်၊- ဇက္ကဲအမျိုးသား ခုနစ်ရာခြောက်
၁၀ ဆယ်၊- ဗာနိအမျိုးသား ခြောက်ရာ လေးဆယ်
၁၁ နှစ်ယောက်၊- ဗေဗဲ အမျိုးသား ခြောက်ရာ နှစ်
၁၂ ဆယ် သုံးယောက်၊- အာဇဂဒ် အမျိုး သား တ
၁၃ ထောင်နှစ်ရာ နှစ်ဆယ် နှစ်ယောက်၊- အဒေါနိ
ကံအမျိုးသား ခြောက်ရာခြောက်ဆယ် ခြောက်
၁၄ ယောက်၊-ဗိဂဝဲအမျိုးသား နှစ်ထောင်ငါးဆယ်
၁၅ ခြောက် ယောက်၊- အာဒိန် အမျိုးသား လေးရာ
၁၆ ငါးဆယ်လေးယောက်၊- ဟေဇကိနှင့်အာတာ
၁၇ အမျိုးသား ကိုးဆယ်ရှစ်ယောက်၊- ဗေဇဲအမျိုး
၁၈ သား သုံး ရာ နှစ် ဆယ် သုံး ယောက်၊- ယောရ
၁၉ အမျိုးသား တရာ တဆယ် နှစ်ယောက်၊- ဟာရှုံ
၂၀ အမျိုးသားနှစ်ရာ နှစ်ဆယ် သုံးယောက်၊- ဂိဗ္ဗာ
၂၁ အမျိုးသားကိုးဆယ်ငါးယောက်၊- ဗက်လင်မြို့
၂၂ သားတရာနှစ်ဆယ်သုံးယောက်၊- နေတောဖမြို့
၂၃ သားငါးဆယ် ခြောက်ယောက်၊- အာနထုတ်မြို့
၂၄ သား တရာ နှစ် ဆယ် ရှစ် ယောက်၊- အာဇမာ
၂၅ ဝက် မြို့သား လေးဆယ် နှစ်ယောက်၊- ကိရယ
အာရိမ်မြို့၊ ခေဖိရမြို့၊ ဗေရုတ်မြို့သား ခုနစ်ရာ
၂၆ လေးဆယ် သုံးယောက်၊- ရာမမြို့၊ ဂါဘမြို့သား
၂၇ ခြောက်ရာ နှစ်ဆယ် တယောက်၊- မိတ်မတ်မြို့
၂၈ သားတရာ နှစ်ဆယ် နှစ် ယောက်၊- ဗေသလမြို့၊
၂၉ အာဣမြို့သားနှစ်ရာနှစ်ဆယ်သုံးယောက်၊-နေ
၃၀ ဗောမြို့သားငါးဆယ်နှစ်ယောက်၊-မာဂဗိတ်မြို့
၃၁ သား တရာငါးဆယ်ခြောက်ယောက်၊- အခြား
သော ဧလံမြို့သား တထောင် နှစ်ရာ ငါး ဆယ်
၃၂ လေး ယောက်၊- ဟာ ရိမ် မြို့ သား သုံး ရာ နှစ်
၃၃ ဆယ်၊- လောဒမြို့၊ ဟာဒိဒ်မြို့၊ ဩနောမြို့သားခု
၃၄ နစ်ဆယ် ငါး ယောက်၊- ယေရိခေါ မြို့သားသုံး
၃၅ ရာလေးဆယ်ငါးယောက်၊- သေနာ မြို့သားသုံး
ထောင်ခြောက်ရာသုံးဆယ်တည်း။
၃၆ ယဇ်ပုရောဟိတ် စာရင်း တွင်ကား၊ ယောရှု
အမျိုးထဲက၊ ယေဒါယ အမျိုးသား ကိုးရာ ခုနစ်
၃၇ ဆယ် သုံး ယောက်၊- ဣမေရ အမျိုး သား တ
၃၈ ထောင် ငါး ဆယ် နှစ် ယောက်၊- ပါရှုရ အမျိုး
သားတထောင်နှစ်ရာလေးဆယ်ခုနစ်ယောက်၊-
၃၉ ဟာရိမ် အမျိုးသား တထောင် တဆယ် ခုနစ်
ယောက်တည်း။
၄၀ လေဝိသားစာရင်းတွင်ကား၊ ဟောဒဝိအမျိုး
ထဲက ယောရှုအမျိုးနှင့် ကာဒမေလအမျိုးသား
၄၁ ခုနစ်ဆယ်လေးယောက်၊-သီချင်းသည်၊ အာသဖ
၄၂ အမျိုးသား တရာနှစ်ဆယ်ရှစ်ယောက်၊-တံခါး
စောင့် အမျိုးသား ကည်းတွင်သော ရှလ္လုံ အမျိုး
သား၊ အာတာ အမျိုးသား၊ တာလမုန် အမျိုး
သား၊ အက္ကုပ်အမျိုးသား၊ ဟတိတအမျိုးသား
ရှောဗဲ အမျိုးသား ပေါင်း တရာ သုံးဆယ် ကိုး
ယောက်တည်း။
၄၃ ဘုရားကျွန်ခံသူ၊ ဇိဟအမျိုးသား၊ ဟသုဖအ
၄၄ မျိုးသား၊ တဗ္ဗောတ်အမျိုးသား၊- ကေရုတ်အ
မျိုးသား၊ သယာဟအမျိုးသား၊ ပါဒုန်အမျိုး
၄၅ သား၊-လေဗနအမျိုးသား၊ဟာဂဗအမျိုးသား၊
၄၆ အက္ကုပ်အမျိုးသား၊- ဟာဂဗ်အမျိုးသား၊ရှာ
၄၇ လမဲအမျိုးသား၊ ဟာနန်အမျိုးသား၊- ဂိဒ္ဒေလ
အမျိုးသား၊ ဂါဟာ အမျိုးသား၊ ရာယာအမျိုး
၄၈ သား၊-ရေဇိန်အမျိုးသား၊နေကောဒအမျိုးသား၊
၄၉ ဂဇ္ဇံအမျိုးသား၊- ဥဇအမျိုးသား၊ပါသာအ
၅၀ မျိုးသား၊ဗေသဲအမျိုးသား၊- အာသနာအမျိုး
သား၊မေဟုနိမ်အမျိုးသား၊နေဖုသိမ်အမျိုးသား၊-
၅၁ ဗာကဗုတ်အမျိုးသား၊ ဟကုဖအမျိုးသား၊ဟာ
၅၂ ရဟုရအမျိုးသား၊-ဗာဇလုတ်အမျိုးသား၊မဟိ
၅၃ ဒအမျိုးသား၊ ဟရရှအမျိုးသား၊- ဗာကုတ်အ
မျိုးသား၊သိသရအမျိုးသား၊သာမအမျိုးသား၊-
၅၄ နေဇိအမျိုးသား၊ဟတိဖအမျိုးသားတည်း။
၅၅ ရှောလမုန်၏ အစေခံ ကျွန်၊ သောတဲ အမျိုး
သား၊ သောဖရက် အမျိုးသား၊ ပေရုဒ အမျိုး
၅၆ သား၊- ယာလာအမျိုးသား၊ ဒါကုန်အမျိုးသား၊
၅၇ ဂိဒ္ဒေလ အမျိုးသား၊- ရှေဖတိ အမျိုးသား၊
ဟတ္တိလ အမျိုးသား၊ ပေါခရက် အမျိုးသား၊
ဇေဗိမ်အမျိုးသား၊ အာမိအမျိုးသားတည်း။-
၅၈ ဘုရားကျွန်နှင့်ရှောလမုန်ကျွန်ပေါင်းကား၊ သုံး
ရာကိုးဆယ်နှစ်ယောက်တည်း။
၅၉ ထိုမှတပါး၊ ဣသရေလ အမျိုး ဖြစ်သည် မဖြစ်
သည်ကိုငြင်း၍၊ မိမိတို့ဆွေ အမျိုးကိုငြင်းမပြနိုင်
သဲ တေလမေလမြို့၊ တေလဟာရှမြို့၊ ခေရုဗ်မြို့၊
အဒ္ဒန်မြို့၊ ဣမေရမြို့မှ ထွက်သွားသောသူ တို့မှ
၆၀ ကား၊- ဒေလာယအမျိုးသား တောဘိအမျိုး
သား၊ နေကောဒအမျိုးသား ပေါင်း ခြောက်ရာ
ငါးဆယ်နှစ်ယောက်တည်း။

၆၁ ယဇ်ပုရောဟိတ်အမျိုးထဲက ဟဗာယအမျိုး
သား၊ ကောဇ အမျိုးသား၊ ဂိလဒ်ပြည် သား
ဗာဇိလဲထီး တယောက် နှင့် စုံဖက်၍၊ ယောက္ခမ
အမည်ကိုရသော ဗာဇိလဲအမျိုးသားတို့သည်-
၆၂ စာရင်းဝင်သောလူစုတွင်၊ မိမိတို့စာရင်းကိုရှာ
၍မတွေ့သောကြောင့်၊ အမျိုးမစစ်၊ ယဇ်ပုရော
၆၃ ဟိတ် အရာကို မခံရကြ။- ဥရိမ် နှင့် သုမိမ် ပါ
သောယဇ်ပုရောဟိတ် မပေါ်မှီတိုင်အောင်၊ သူ
တို့သည် အသန့်သန့်ရှင်းသောအရာတို့ကိုမစား
ရဟု၊ ပြည်အုပ်မင်းမိန့်၏။
၆၄ ပရိသတ် ပေါင်း ကား၊ လေးသောင်း နှစ်
၆၅ ထောင်သုံးရာခြောက်ဆယ်တည်း။-ထိုမှတပါး
ကျွန်ယောကျာ်း၊ ကျွန်မိန်းမပေါင်း ခုနစ်ထောင်
သုံးရာ သုံးဆယ် ခုနစ်ယောက်၊ သီချင်း သည်
၆၆ ယောကျာ်းမိန်းမပေါင်းနှစ်ရာ၊- မြင်းပေါင်းခုနစ်
ရာသုံးဆယ်ခြောက်စီး။ လားပေါင်းနှစ်ရာလေး
၆၇ ဆယ်ငါးစီး၊- ကုလားအုတ်ပေါင်း လေးရာသုံး
ဆယ် ငါးစီး၊ မြည်းပေါင်း ခြောက် ထောင် ခုနစ်ရာ
နှစ်ဆယ်တည်း။
၆၈ အဆွေအမျိုး သူကြီး အချို့တို့သည် ယေရု ရှ
လင်မြို့၊ဗိမာန်တော်သို့ရောက်သောအခါ၊ဗိမာန်
တော်ကို မိမိနေရာ၌ တည်ဆောက်ခြင်းငှါ-
၆၉ တတ်နိုင်သမျှအတိုင်း အလိုလို လှူ၍၊ ရွှေဒင်္ဂါး
ခြောက် သောင်း တထောင်၊ ငွေ အခွက် ငါး
ထောင်။ ယဇ်ပုရောဟိတ်အဝတ်အစုံတရာကို၊
၇၀ ဘဏ္ဍာတော် ထဲသို့သွင်းကြ၏။- ထိုသို့ ယဇ်ပု
ရောဟိတ်၊လေဝိသား၊သာမည လူအချို့၊သီချင်း
သည်၊ တံခါးစောင့်၊ ဘုရားကျွန်တို့သည် မိမိတို့
နေရာ မြို့ရွာတို့၌နေ၍၊ ဣသရေလ ပြည်သူပြည်
သားအပေါင်းတို့သည်၊ မိမိတို့နေရာ မြို့ရွာတို့၌
နေရာကျကြ၏။

၃

သတ္တမလရောက်မှ၊ မြို့ရွာအရပ်ရပ်၌နေသော
ဣသရေလ အမျိုးသား လူ အပေါင်း တို့ သည်၊
ယေရုရှလင်မြို့သို့ တညီတညွတ်တည်းလာ၍ စု
၂ ဝေးကြ၏။- ထိုအခါ ယောဇဒက်သား ယောရှု
နှင့်သူ၏ညီအစ်ကို၊ယဇ်ပုရောဟိတ်များ၊ရှာလ
သေလသား ဇေရုဗဗေလ နှင့် သူ၏ ညီ အစ်ကို
များ တို့သည်ထ၍၊ ဘုရားသခင်၏ လူ မောရှေ
ရေးထားသော ပညတ္တိ ကျမ်းစာ၌ ပါသည် အ
တိုင်း-မီးရှို့ရာယဇ်တို့ကိုပူဇော်လိုသောငှါ၊ ဣ
သရေလ အမျိုး၏ ဘုရားသခင် ယဇ်ပလ္လင်ကို
၃ တည်ကြ၏။-ထိုပြည်အရပ်ရပ်၌နေသောလူတို့
ကိုကြောက်သော်လည်း၊ ယဇ်ပလ္လင်ကိုမိမိတို့
နဂိုလ်နေရာတည်ထား၍၊ နံနက်ညဦးမပြတ်၊ မီး
ရှို့ရာယဇ်တို့ကို ထာဝရဘုရားအား ပူဇော်ကြ
၄ ၏။- ကျမ်းစာ ထားသည်အတိုင်း၊ သင်္ကေနေပွဲ
ကိုထည်းခံ၍၊ တရားနှင့်အညီ နေ့ တိုင်း၊ ဂဏန်း
ဖော်ပြထားသော မီးရှို့ရာယဇ်တို့ကို နေ့တိုင်းပူဇော်ကြ၏။
၅ ကို အရေအတွက်နှင့်ပူဇော်ကြ၏။-ထိုနောက်မှ၊
အမြဲပူဇော်ရသောယဇ်၊ လဆန်းနေ့၌၎င်း၊ထာ
ဝရဘုရားအဖို့ သန့်ရှင်းစေသော ဓမ္မပွဲနေ့၌၎င်း၊
ပူဇော် ရသောယဇ်၊ ထာဝရဘုရားအား အလို
လိုပူဇော်သကာကို၊ ဆောင်ခဲ့သောသူအသီးအ
သီးအဖို့ ပူဇော်ရသောယဇ်တို့ကို ပူဇော်လျက်
၆ နေကြ၏။- ဗိမာန်တော် တိုက်မြစ်ကို မချသေး
သော်လည်း၊ သတ္တမလတရက်နေ့မှစ၍ မီးရှို့ရာ
ယဇ်တို့ကို ထာဝရ ဘုရားအား ပူဇော်ကြ၏-
၇ ပန်းရန် အမာနှင့် လက်သမား တို့အားလည်း
ငွေကို ပေးကြ၏၊ ပေရသိရှင်ဘုရင် ကုရု အခွင့်
ပေးတော်မူသည်အတိုင်း၊ အာရဇ်သစ်သားကို
လေဗနုန်တောင်မှ ယုပ္ပေဆိပ်သို့ ဆောင်စေခြင်း
ငှါ၊ ဇိဒုန်မြို့သားနှင့် တုရုမြို့သား တို့အား၊ စား
စရိတ်နှင့်ဆီများကိုပေးကြ၏။
၈ ယေရုရှလင်မြို့၊ ဗိမာန်တော်သို့ရောက်သော
ဒုတိယနှစ်၊ ဒုတိယ လဆွင် ရှာလသေလ သား
ဇေရုဗဗေလ၊ ယောဇဒက် သားယောရှု၊ ကျွန်
ကြွင်းသော ညီအစ်ကို၊ ယဇ်ပုရောဟိတ်၊ လေဝိ
သားများ၊ အချုပ်ခံရသော လူစုထဲကထွက်၍၊
ယေရုရှလင်မြို့သို့ လာသောလူများ အပေါင်းတို့
သည်ထ၍၊ဗိမာန်တော်တည်ဆောက်ခြင်းအ
မှုကို ချီးဆော်စိမ့်သောငှါ၊ လေဝိသားတို့ကိုခန့်
၉ ထားကြ၏။-ထိုအခါယုဒအမျိုးယောရှုနှင့်သူ၏
သားညီများ၊ ကပ်မျေလနှင့်သူ၏သားများ၊လေ
ဝိ အမျိုး ဟေနဒဒ်သားများ၊ သူတို့သားနှင့် ညီ
များတို့သည်၊ ဗိမာန်တော်ကို တည် ဆောက်
လုပ်ဆောင် သော သူတို့ကို ချီးဆော် ခြင်းငှါ ထ
၁၀ ကြ၏။- လုပ်ဆောင်သော သူတို့သည် ထာဝရ
ဘုရား၏ဗိမာန်တော်တိုက်မြစ်ကိုချသောအခါ၊
ဣသရေလ ရှင်ဘုရင် ဒါဝိဒ် စီရင်သည် အတိုင်း
ထာဝရဘုရား၏ ဂုဏ်တော်ကို ချီးမွမ်းစေခြင်း
ငှါ၊ တံပိုးကိုင်သောယဇ်ပုရောဟိတ်များ၊ ခွက်
ကွင်းကိုင်သောလေဝိအမျိုး၊ အာသပ်သားများ
၁၁ တို့ကို ခန့်ထားကြ၏။- ထာဝရ ဘုရား ထည်း

ကောင်း၊ မြဲ၍တော်မူ၏။ ဣသရေလ အမျိုး၌မြဲ
တော်မူသော ကရုဏာတော် အစဉ်အမြဲ တည်
ပါသည် ဟူ၍၊ ဂုဏ်တော် ကို ချီးမွမ်း လျက်၊
ကျေးဇူး တော်ကို ဝန်ခံ လျက်၊ အသံ ပြိုင်၍ အ
လှည့်လှည့်သီခြင်းဆိုကြ၏။ဗိမာန်တော်တိုက်
မြစ်ကို ချရ သောကြောင့်၊ လူ အပေါင်း တို့သည်
ထာဝရ ဘုရား၏ ဂုဏ် တော်ကို ချီး မွမ်း လျက်၊
၁၂ ကြီးသော အသံနှင့် ကြွေးကြော် ကြ ၏။– သို့ရာ
တွင်၊ အသက်ကြီး၍ အရင်ဗိမာန်တော်ကိုမြင်
ဘူးသောယဇ်ပုရောဟိတ်၊ လေဝိသား၊ အဆွေ
အမျိုး သူကြီး အများတို့သည်၊ နောက် ဗိမာန်
တော်တိုက်မြစ်ကျလျက်ရှိသည်ကိုမြင်သောအ
ခါ၊ ကြီးစွာသော အသံ နှင့် ငိုကြွေး ကြ၏။ လူ အ
များတို့သည်လည်း၊ ဝမ်းမြောက်သောစိတ်နှင့်
၁၃ ကြွေးကြော်ကြ၏။–ထိုသို့ပြုသောကြွေးကြော်သံ
နှင့်ငိုကြွေးသံကိုကြားသောသူတို့သည်ပိုင်းခြား
၍ မသိနိုင်ကြ။ လူများတို့သည် ကြီးစွာသောအ
သံနှင့် ကြွေးကြော် သောကြောင့်၊ ဝေးသောအ
ရပ်၌ကြားရလေ၏။

၄

၁ သိမ်းသွားခြင်းကိုခံ ရသော အမျိုး သား တို့
သည်၊ ဣသရေလ အမျိုး၏ဘုရားသခင်ထာဝရ
ဘုရားအဖို့၊ ဗိမာန်တော်ကိုတည်ကြသည်ဟု၊
ယုဒ အမျိုးနှင့် ဗင်္ယာမိန်အမျိုး၏ ရန်သူတို့သည်
၂ ကြားလျှင်– ဇေရုဗဗေလ နှင့် အဆွေအမျိုး သူ
ကြီး တို့ထံသို့ လာ၍၊ ငါ တို့သည် သင်တို့ ထံ၌
တည်းခိုပါရစေ။ သင်တို့၏ ဘုရားသခင်ကို သင်
တို့ရှာသကဲ့သို့ ငါတို့လည်း ရှာကြ၏။ ငါတို့ကို
ဤပြည်သို့ဆောင်ခဲ့သောအာရှုရိရှင်ဘုရင်ဧသ
ရဟဒ္ဒုန်လက်ထက်မှစ၍၊ ထိုဘုရားသခင်အား
၃ ယဇ်ပူဇော် ကြသည်ဟု ဆိုကြသော်– ဇေရုဗ
ဗေလနှင့်ယောရှုအစရှိသော ဣသရေလအဆွေ
အမျိုး သူကြီးတို့က၊ ငါတို့၏ ဘုရားသခင် အဖို့၊
ဗိမာန်တော်တည်ခြင်းအမှုကို၊သင်တို့သည်ငါ
တို့နှင့်ပိုင်း၍ မလုပ်ရ။ပေရသိရှင်ဘုရင်ကုရုမင်း
ကြီး အမိန့်တော်အတိုင်း၊ ဣသရေလ အမျိုး၏
ဘုရား သခင် ထာဝရ ဘုရား အဖို့၊ ငါတို့သည်
၄ ကိုယ်တိုင် တည်ရမည်ဟု ပြန်ပြောကြ၏။– ထို
အခါပြည်သားတို့သည် ယုဒအမျိုးတို့ကိုလက်
အား လျော့ စေ၍၊ တည် ဆောက် ခြင်း အမှု ကို
၅ နှောင့်ရှက်ကြ၏။– ယုဒအမျိုးသားတို့၏ အကြံ
ကိုဖျက်ဆီးခြင်းငှါ၊ပေရသိရှင်ဘုရင်ကုရုထက်
ထက်ကာလပတ်လုံး မှ သည်၊ ပေရသိရှင်ဘုရင်
၆ ဒါရိထက်ထက်တိုင်အောင်၊ ရွှေနေတို့ကိုငှါး၍
ထားကြ၏။–အာရှုရုနန်းထိုင်စကယုဒပြည်သူ၊
ယေရုရှလင်မြို့သားတို့၌၊ အပြစ်တင်သောလျှော
စာကိုပေးလိုက်ကြ၏။
၇ အာတဇေရဇ် လက်ထက် ၌ ဗိရှလံ၊ မိဒ္ဒ ရာ
ဒတ်၊ တဗေလနှင့်အခြားသော အပေါင်းအဖော်
တို့သည်၊ ရှုရိ ထာသာစကားနှင့် ရေးသောလျှော
စာကို၊ ပေရသိ ရှင် ဘုရင် အာတဇေရဇ် ထံ သို့
၈ ပေးလိုက် ကြ၏။– စာတိုက်မှူး ရေဟုံနှင့် မြို့ စာ
ရေး ရှိမ္ရှဲ တို့သည်၊ ယေရုရှလင် မြို့ကို ရန်ထောက်
ပြုလျက်၊ အာတဇေရဇ် မင်းကြီးထံသို့ စာရေး
၉ လိုက်၍– စာတိုက်မှူးရေဟုံ၊ မြို့စာရေးရှိမ္ရှဲနှင့်
အခြားသော အပေါင်း အဖော်၊ ဒိနဲပြည်သား၊
အာဖာသသက်ပြည်သား၊ တာပေလပြည်သား၊
အဖာရသပြည်သား၊ အာခေဝပြည်သား၊ ဗာဗု
လုန်ပြည်သား၊ ရှုရှနက်ပြည်သား၊ ဒေဟာဝပြည်
၁၀ သား၊ ဧလံ ပြည်သား အစရှိသော၊– ကြီးမြတ်
သောမင်း အာသနပ္ပါ ဆောင်ခဲ့၍၊ ရှမာရိမြို့ရွာ
တို့၌နေရာချသောသူများနှင့်၊မြစ်အနောက်ဘက်
၌နေသောအခြားသူများတို့သည်၊ ဤမည်သော
၁၁ နေ့ရက်ကာလတွင်– အာတဇေရဇ်မင်းကြီးထံ
သို့ ပေးလိုက်သောစာဟူမူကား၊ မြစ်အနောက်
ဘက်၌ နေသော ကိုယ်တော် ကျွန်တို့သည်၊ ဤ
မည်သော နေ့ရက်ကာလတွင် လျှောက်ပါ၏။–
၁၂ အထံတော်မှ ကျွန်တော်တို့ ရှိရာသို့ ရောက်လာ
သောယုဒလူတို့သည်ဆိုးညစ်၍၊ ပုန်ကန်တတ်
သောယေရုရှလင်မြို့ကိုတည်လျက်၊ မြို့ရိုးအမြစ်
ကိုချ၍ လက်စ သတ်လုသည်ကို သိမှတ်တော်မူ
၁၃ ပါ။– ထိုမြို့ကိုတည်ပြန်၍ မြို့ရိုးကိုလက်စသတ်
လျှင်၊ ငွေ တော် ခွဲခြင်း ကို မခံ၊ အခွန် တော် အ
ကောက်တော်ကို မပေးဘဲနေ၍၊ နိုင်ငံတော် အ
၁၄ ကျိုးနည်းပါလိမ့်မည်ကိုသိမှတ်တော်မူပါ။–ကျွန်
တော်တို့သည်ကျေးဇူးတော်အားဖြင့်၊ အသက်
မွေးရသောသူဖြစ်သည်နှင့်အညီ၊ကိုယ်တော်၌
ဘုန်းတော် လျော့ကြောင်းကိုကြည့်၍ မနေသင့်
သောကြောင့်၊ ထိုးတော်တေးတော်တို့၏မှတ်စာ
ကိုစစ်ကြောတော်မူမည့်အကြောင်း၊ ဤလျှောက်
၁၅ စာကိုပေးလိုက်ပါ၏။– ယေရုရှလင်မြို့သည် ပုန်
ကန် တတ်သောမြို့၊ ရှင်ဘုရင် အကျိုးနှင့် နိုင်ငံ
တော် အကျိုးစီးပွားကို ဖျက်ဆီး တတ်သော မြို့
ဖြစ်ဘူး၍၊ ရှေးကာလ၌ မြို့ထဲမှာ ပုန်ကန်သော

အကြီးကို အစည်ပြုစုထော့ကြောင်း၊ အထိုက်အ
ရှုတ် ခံရပါသည် အကြောင်း အရာများကို၊ ထို
၁၆ မှတ်စာ၌တွေ့၍ သိတော်မူပါလိမ့်မည်။- ထိုမြို့
ကိုတည်ပြန်၍၊ မြို့ရိုးကိုထိတ်စသတ်လျှင်၊ ကိုယ်
တော်သည်မြစ်အနောက်ထက်၌အ မိုးရစတော်မ
မူကြောင်းကို၊ ကျွန်တော် ထို လျှောက် ထားပါ
သည်ဟုစာ၌ပါထတည်။
၁၇ ရှင်ဘုရင် သည် စာ ထိုက်မိုး ရေဟုံ နှင့် မြို့စာ
ရေးမှီမရှဲမှစ၍၊ ရှမာရိမြို့၌နေသော ထိုသူတို့၏
အပေါင်း အဖော် များ၊ မြစ် အ နောက် ထက် ၌
နေ သော အ ခြား သူ များ တို့ မှီ ရာ ထို့ ပြန် ပေး
၁၈ ထိုက် သော စာ တူမူကား။- ၌ မည်သော နေ့
ရက်ကာထတွင်၊ ငါရေး၍ ထင်ထို့ ရှမ်းသာပါ
စေးငထံသို့သင်တို့ပေးထိုက်သောစာကိုရှေ့မှာ
၁၉ အနက်ပြန်၍ဝတ်ပြီ။-ငါမှာထားသည်ရှုထိုင်း။
စစ်ကြောကြဲသောအခါ၊ ထိုမြို့သည်ရှေးကာထ၌
ရှင် ဘုရင် တို့ကို ပုန်ကန် ကြောင်း၊ မ ကောင်း
သောအကြံကိုကြံတတ် သောမြို့၊ ပုန်ကန်တတ်
၂၀ သော မြို့ဖြစ်ကြောင်း။-ငွေတော်ကိုခွဲလျှတ်၊ အ
ခွန်တော် အကောထ်တော်ကို ခံလျှတ်၊ မြစ်အ
နောက်ထက်တရှောက်လုံးကိုအမိုးရ၍၊ တန်ခိုး
ကြီးသောရှင်ဘုရင်တို့သည် ယေရုရှထင်မြို့၌နေ
၂၁ သူးကြောင်းများကို သိရ၏။- သို့ဖြစ်၍၊ ငါသည်
အခွင့်မပေးမှီထိုင်အောင်၊ ထိုသူတို့သည်မြို့ကိုမ
တည်ဘဲ နေစေမည်အကြောင်း၊ အမိန့်တော်ကို
၂၂ ဆင့်ဆိုကြလော့။- နိုင်ငံတော်အကျိုး မပျက်စီး
စေခြင်းငှါသတိပြု၍၊ ၌အမှုကိုနှေးနှေး ကြည့်ရှု
၂၃ ကြလော့ဟု မိန့်တော်မူ၏။- အာတဇေရဇ်မင်း
ကြီး၏စာကို ရေဟုံနှင့်မြို့စာရေးမှီမရှဲ အစရှိသော
သူတို့အပေါင်းအဖော်ရှေ့မှာဖတ်ပြီးလျှင်၊ ထိုသူတို့
သည်ယေရုရှလင်မြို့၊ ယုဒ လူ တို့မှီရာသို့ အလျင်
အမြန်သွား၍၊ ယုဒလူတို့၏အလုပ်အကိုင်ကိုအ
၂၄ နိုင်အထက် ဆီးတားကြ၏။- ထိုသို့ယေရုရှလင်
မြို့၏ဗိမာန်တော်တည်ခြင်းအမှုပြတ်၍၊ ပေရ
သိရှင်ဘုရင်ဒါရိယနန်း၏ နှစ်နှစ်တိုင်အောင် ထက်
စမသတ်ဘဲနေလေ၏။

၅

၁ ထိုအခါပရောဖက်ဟဂ္ဂဲနှင့် ဣဒ္ဒေါသားပရော
ဖက် ဇာခရိ လူတို့သည် ယုဒပြည်သူ ယေရုရှ
လင်မြို့သား၊ ယုဒလူတို့အား၊ ဣသရေလဘုရားအ
၂ ခွင့်နှင့်ဟောကြ၏။- ထိုသို့ဘုရားသခင်၏ပရော
ဖက်တို့သည်ရိုင်းဆမြင်၍၊ ရှာလသေလသား ဇေ
ရုဗဗေလ နှင့်ယောဇာဒက်သား ယောရှုအည်ထ
၍၊ ယေရုရှလင်မြို့၌ ဗိမာန်တော်ကို တည်စပြု
ပြန်ကြ၏။
၃ ထိုအခါ မြစ်အနောက်ထက် မြို့ဝန် တာတနဲ
နှင့်ရှေသာဗောဇနဲမှစ၍၊ သူတို့အပေါင်းအဖော်
တို့သည်လာ၍၊ ၌အိမ်ကိုတည်ဆောက်ရစေ၍၊
၌မြို့ရိုးကိုပြုစုရမည်အကြောင်း၊ အဘယ်သူ
၄ မှာ ထားသနည်း၊ ဟူ၍ ငှင်- ၌ အိမ် ကို တည်
ဆောက်သောသူတို့၏အမည်ကား၊ အဘယ်ထို
၅ နည်းဟူ၍ငှင်၊ မေးဝစ်ကြသော်ထည်း-ဒါရိမင်း
အမိန့်တော်မရောက်မှီအလုပ်အကိုင် မပြတ်စေ
ခြင်းငှါ၊ ဘုရားသခင်သည် ယုဒအမျိုးသား အ
သက်ကြီးသူတို့ကိုထောက်ရှုတော်မူ၏။ ထိုဖြစ်
၍၊ အထံ တော် သို့ လျှောက် စာ ကို ပေး ထိုက်
ကြ၏။
၆ မြစ်အနောက်ထက်မြို့ဝန်တာတနဲနှင့်ရှေသာ
၇ ဗောဇနဲမှစ၍ သူတို့အပေါင်း အဖော်၊ မြစ်အ
နောက် ထက် ၌ နေသော အာဖာသသတ် လူတို့
သည်၊ ဒါရိမင်းကြီး ထံသို့ ပေးထိုက်သော စာ
ချက်ဟူမူကား၊ ဒါရိမင်းကြီး၌ အစည်ချမ်းသာ
၈ ရှိပါ စေသော၊- ကျွန် တော်တို့သည် ယုဒပြည်
တွင်ကြီးမြတ်သောဘုရားသခင်၏အိမ်တော်သို့
ရောက်၍၊ ထိုအရပ်သားတို့သည်အိမ်တော်ကို
ကျောက် ကြီး နှင့် တည် ထုပ် လျှက်၊ ကျောက်
ထရံပေါ်မှာ သစ်သားကိုတင်လျှက်၊ အလျင်အ
မြန် လုပ်ဆောင်၍၊ အကြံ ထမြောက် ကြောင်း
၉ ကိုသိမှတ် တော်မူပါ။- ၌အိမ်ကိုတည်ဆောက်
ရမည်၊ ၌ မြို့ရိုးကို ပြုစု ရမည် အ ကြောင်း။
၁၀ အဘယ်သူ မှာထား သနည်းဟူ၍ငှင်- သူကြီး
တို့၏ အမည် များ ကို စာရင်း ထူ၍ အထံ တော်
သို့ ပေးထိုက်ခြင်းငှါ၊ သူကြီးတို့၏ အမည်များ
ကို ငှင်၊ အထက် ကြီး သူ တို့ ၌ မေး မြန်း သော
၁၁ အခါ- သူတို့က၊ ငါတို့သည်ကောင်းကောင်နှင့်မြေ
ကြီး၏အရှင် ဘုရားသခင်၏ ကျွန်တော်ဖြစ်ကြ၏။
ရှေး ကာလ၌ ကြီး မြတ် သော ဣသရေလ ရှင်
ဘုရင်တည် ထောင်တော် မူသော အိမ်တော်ကို
၁၂ ထရုပြုစုကြ၏။-ငါတို့ဘိုးဘေးတို့သည်ကောင်း
ကင်ဘုံ၏ အရှင် ဘုရားသခင်၏ အမျက်တော်ကို
နှိုးဆော်သောကြောင့်၊ သူတို့ကိုဗာဗုလုန်မင်း
ဗုလုန် ရှင် ဘုရင် နေဗုခဒ်နေဇာ ထက် သို့ အပ်
တော်မူသဖြင့်၊ ထိုရှင်ဘုရင်သည် ၌အိမ်တော်
ကို ဖျက်ဆီး၍၊ ပြည်သားတို့ကို ဗာဗုလုန် မြို့သို့

၁၃ ထိမ်းသွား၏။- ဗာဗုလုန် ရှင်ဘုရင် ကုရုသည်၊
နန်းစံပဌမနှစ်တွင်၊ ဤဗိမာန်တော်ကို ပြုပြင်ရ
၁၄ မည့် အကြောင်းမိန့်တော်မူ၏။- နေဗုခဒ်နေဇာ
သည်ယေရုရှလင်မြို့၏ဗိမာန်တော်ထဲကထုတ်
၍၊ဘုရားသခင်၏အိမ်တော်နှင့် ဆိုင်သော်လည်း၊
ဗာဗုလုန်မြို့၏ ဗိမာန်သို့ဆောင်သွားသော ရွှေ
တန်ဆာ၊ ငွေတန်ဆာတို့ကို ကုရုမင်းကြီးသည်
ဗာဗုလုန်မြို့၏ ဗိမာန်ထဲကတဖန်ထုတ်၍၊ ရှေ
ရှဗာဇာအမည်နှင့် မြို့ဝန်အရာ၌ခန့်ထားသော
၁၅ သူထက်သို့အပ်တော်မူလျက်- ဤတန်ဆာတို့ကို
ယူ၍၊ ယေရုရှလင်မြို့၏ ဗိမာန်တော်သို့ ဆောင်
သွားလော့။ ဘုရားသခင်၏ အိမ်တော်ကိုမိမိနေ
ရာ၌တည်ပြန်စေဟု၊မိန့်တော်မူသည်အတိုင်း-
၁၆ ထို ရှေရှဗာဇာ သည် လာ၍ ယေရုရှလင် မြို့ ၏
ဘုရားအိမ်တော် အမြစ်ကိုချထားသဖြင့်၊ ထိုအ
ချိန်မှစ၍ယခုတိုင်အောင်၊ ငါတို့သည်တည်လုပ်
၁၇ လျက်ထက်မသတ်သေးဟုပြန်ပြောကြ၏။-သို့
ဖြစ်၍၊ ယေရုရှလင် မြို့၌ ဘုရား၏ အိမ်တော် ကို
တည် ရမည် အကြောင်း၊ ကုရု မင်းကြီး အမိန့်
တော် ရှိသည် မရှိသည်ကို သိလို သဖြင့်၊ ဗာဗု
လုန်မြို့ ဘဏ္ဍာ တော်တိုက်၌ ရှာဖွေ စေခြင်းငှါ၊
အထိုတော်ရှိလျှင် ရှာဖွေစေတော်မူပါ။ နောက်
တဖန် ဤအမှု၌အလိုတော်ရှိသည်အတိုင်း၊ ကျွန်
တော်တို့ဆီသို့အမိန့်တော်စာကိုပေးလိုက်တော်
မူပါဟု၊လျှောက်စာ၌ပါသတည်း။

၆

၁ ထိုအခါဒါရိမင်းကြီးအမိန့်တော်နှင့်ဗာဗုလုန်
မြို့ဘဏ္ဍာတော်ထားရာစာတိုက်၌ရှာဖွေကြ၏။-
၂ မေဒိပြည်၊အာခမေသမြို့၊နန်းတော်၌စာလိပ်ကို
တွေ့၍၊ စာလိပ်၌ ပါသောစကား ဟူမူကား၊-
၃ ထာ၀ရပူဇော်ရာအိမ်တော်ကိုတည်စေ။တိုက်မြစ်
ကိုမြိုင်ခိုင်စွာချထားစေ။ အမြင့်အတောင် ခြောက်
၄ ဆယ်၊ အနံ အတောင် ခြောက် ဆယ် ရှိ၍- ကြီး
သောကျောက်တန်းသုံးဆင့်၊ အသစ်သောသစ်
သား တန်း တဆင့်နှင့် အထပ် ထပ် တည်စေ။ စ
ရိတ်ရှားကိုလည်း ဘဏ္ဍာတော်ထဲက ထုတ်၍
၅ ပေးစေ။- ယေရုရှလင်မြို့၏ ဗိမာန်တော် ထဲက
နေဗုခဒ်နေဇာ ထုတ်၍၊ ဘုရား သခင် ၏ အိမ်
တော်နှင့်ဆိုင်သော်လည်း၊ဗာဗုလုန်မြို့သို့ဆောင်
ခဲ့သော ရွှေတန်ဆာ ငွေတန် ဆာတို့ကို ပြန် ပေး
စေ။ ယေရုရှလင်မြို့၏ ဗိမာန်တော်သို့ ပို့၍၊ အ
ထုံးစုံထိုကိုဘုရားအိမ်တော်ထဲတွင် မိမိထိုနေရာ
၌ထားစေဟု၊ ကုရုမင်းကြီးသည်နန်းစံပဌမနှစ်
တွင်၊ ယေရုရှလင်မြို့၏ဘုရားအိမ်တော် အမှုမှာ
၆ အမိန့်တော်ရှိ၏။-သို့ဖြစ်၍၊မြစ်အနောက်ထက်
မြို့ဝန် တာတနဲ၊ ရှေထာဗောဇနဲ နှင့် သင်တို့ အ
ပေါင်း အဖော် တည်း ဟူသော၊ မြစ် အ နောက်
ထက်၌နေသောအဖါသသက်လူတို့၊ထွက်သွား
၇ ကြ။- ထိုဘုရား၏အိမ်တော်တည်ခြင်းအမှုကိုမ
ဆီးမတားကြနှင့်။ ယုဒမြို့ဝန်နှင့်ယုဒအမျိုးအ
သက်ကြီးသူတို့သည်၊ထိုအိမ်တော်ကိုမိမိနေရာ
၈ ၌တည်ပါလေစေ။-ထိုမှတပါး၊သင်တို့သည်ထို
ဘုရား၏အိမ်တော်တည်ခြင်းအမှုကိုယုဒအမျိုး
အသက်ကြီးသူတို့နှင့် ကူညီရမည်အကြောင်း၊
သူတို့သည် အဆီးအတား မရှိစေခြင်းငှါ၊ မြစ်
အနောက်ထက်၌ခံသော အခွန်တော်တည်းဟူ
သော ဘဏ္ဍာတော်ထဲက အိမ်တော်တည်စရာ
စရိတ်ကို ချက်ချင်းထုတ်ပေးရမည်အကြောင်း၊
၉ ငါအမိန့်တော်ရှိ၏။- ထိုမှတပါး၊ သူတို့ သည်
၁၀ ရွှေးကြိုင်သောယဇ်တို့ကို ကောင်းကင်ဘုံ၏အ
ရှင် ဘုရား သခင် အား ပူဇော် ၍၊ ရှင်ဘုရင် အ
သက်၊ သွေတော်မျိုးတော်တို့၏ အသက်အဖို့ဆု
တောင်း စေခြင်းငှါ၊ သူတို့လိုချင်သမျှ၊ ယေရုရှ
လင်မြို့ ယဇ်ပုရောဟိတ်တို့စီရင်သည်အတိုင်း၊
ကောင်းကင်ဘုံ၏ အရှင်ဘုရားသခင်အား၊ မီးရှို့
ရာယဇ်ပူဇော်စရာနွားသငယ်၊သိုးထီး၊သိုးသငယ်၊
စပါး၊ဆား၊စပျစ်ရည်၊ဆီတို့ကိုနေ့တိုင်းအစဉ်
၁၁ မပြတ်ပေးစေ။- ငါနည်း၊ အကြင်သူသည်ဤ
အမိန့် တော်ကို ပြင်းဆန် လျှင်၊ ထိုသူ၏ အိမ်မှ
သစ်တိုင်ကိုနှုတ်ယူ၍ စိုက်ပြီးမှ၊ သူကိုထည်ဆွဲ
ချစေ။ သူအိမ်ကိုလည်းနောက်ချေးပုံဖြစ်စေဟု ငါ
၁၂ အမိန့်တော်ရှိ၏။- ယေရုရှလင်မြို့၏ ဘုရားအိမ်
တော်ကို ကျိုးပဲ့ ဖျက်စီး စေခြင်းငှါ၊ ပြုသောရှင်
ဘုရင်နှင့်လင်းရဲ သားအပေါင်းတို့ကို၊ ထိုအရပ်
၌ နာမတော် တည် စေသော ဘုရား သခင် သည်
ဖျက်ဆီးတော်မူပါစေသော။ ငါဒါရိသည်အမိန့်
တော်ကို ပေး၏။အမိန့်တော်အတိုင်း၊အလျင်အ
မြန်ပြုစေဟုပေးလိုက်သတည်း။
၁၃ ထိုအခါ ဒါရိ မင်းကြီး ပေးလိုက်သော အမိန့်
တော်အတိုင်း၊ မြစ်အနောက်ထက်မြို့ဝန်တာတ
နဲ၊ရှေသာဗောဇနဲနှင့်သူတို့ အပေါင်း အဖော်တို့
၁၄ သည်အလျင်အမြန်ပြုကြ၏။-ယုဒအမျိုးအသက်
ကြီးသူတို့သည်တည်ဆောက်၍၊ ပရောဖက်ဟဂ္ဂဲ
နှင့်ဣဒေါသားဇာခရိယောသောအားဖြင့်၊ အ

ကြီထမြောက်ကြ၏၊ ဣသရေလအမျိုး၏ဘုရား
သခင်အမိန့်တော်နှင့်ပေရသိရှင်ဘုရင်ကုရုမင်း၊
ဒါရိမင်းအမိန့်တော်အတိုင်း၊ တည်ဆောက်၍
၁၅ ထက်စသတ်ကြ၏။-ဒါရိမင်းကြီးနန်းစံခြောက်
နှစ်၊အာဒါလ၊ သုံးရက်နေ့တွင် ဗိမာန်တော်သည်
ပြီးပြည့်စုံ၏။
၁၆ ဣသရေလ အမျိုး သား၊ ယဇ်ပုရောဟိတ်၊
လေဝိသား၊ အစရှိသော၊ သိမ်း သွား ခြင်းကို ခံ
ဘူးသောအမျိုးသားချင်းရှိသမျှတို့သည်၊ ဘုရား
သခင်၏ဗိမာန်တော်ကိုဝမ်းမြောက်သောစိတ်နှင့်
၁၇ အနုမောဒနာ ပွဲခံကြ၏။- ထိုဗိမာန် တော်၏ အနု
မောဒနာပွဲတွင်နွားတရာ၊သိုးထီးနှစ်ရာ၊သိုးသ
ငယ်လေးရာကိုဌင်၊ ဣသရေလအမျိုး တဆယ်
နှစ်မျိုးတလိုက်၊ အမျိုးသား အပေါင်း တို့၏ အ
ပြစ်ဖြေရာ ယဇ် တည်း ဟူသော ဆိတ် ထီး တ
၁၈ ဆယ်နှစ်ကောင်ကိုဌင်၊ယဇ်ပူဇော်ကြ၏။-မော
ရှေကျမ်းစာ၌ ပါသည်အတိုင်း၊ ယေရုရှလင်မြို့
၌ဘုရားဝတ်ကိုပြုစေခြင်းငှါ၊ ယဇ်ပုရောဟိတ်
အသီးအသီးတို့ကိုဌင်၊သင်းဖွဲ့သောလေဝိသား
၁၉ တို့ကိုဌင်ခန့်ထားကြ၏။-သိမ်းသွားခြင်းကိုခံရ
သောအမျိုးသားတို့သည်ပဌမလ၊တဆယ့်လေး
၂၀ ရက်နေ့တွင် ပသခါ ပွဲကိုလည်း ခံကြ၏။- ယဇ်
ပုရောဟိတ် နှင့် လေဝိ သားတို့ သည် တညီ တ
ညွတ်တည်းကိုယ်ကိုသန့်ရှင်းစေ၍၊အလုံးစုံတို့
သည်သန့်ရှင်းသဖြင့်၊ မိမိတို့အဖို့မှစ၍၊ ပေါက်
ဖော်ချင်း ယဇ်ပုရောဟိတ် တို့ အဖို့ နှင့်၊ သိမ်း
သွားခြင်းကို ခံရသော အမျိုးသား အပေါင်းတို့
၂၁ အဖို့၊ ပသခါ သိုးသငယ်ကို သတ်ကြ၏။- သိမ်း
သွားခြင်းကို ခံသောလူစုထဲက ထွက် လာသော
ဣသရေလ အမျိုးသားများ၊ ဣသရေလအမျိုး၏
ဘုရားသခင် ထာဝရ ဘုရားကို ရှာလို သောငှါ၊
တပါးအမျိုးသားနေရာအရပ်အညစ်အကြေးကို
ပယ်ရှားသောသူများအပေါင်းတို့သည် ပသခါပွဲ
၂၂ ကိုစား၍- ခုနှစ်ရက်ပတ်လုံးဝမ်းမြောက်သော
စိတ်နှင့်အဇုမပွဲကိုလည်းခံကြ၏၊ အကြောင်းမူ
ကား၊ထာဝရဘုရားသည်ဝမ်းမြောက်သောသ
ဘောကိုပေးတော်မူ၏၊ ဣသရေလ အမျိုး၏ဘုရား
သခင် ဗိမာန်တော်တည်ဆောက်ခြင်း အမှုမှာ၊
အာရှုရိ ရှင်ဘုရင်မစမည် အကြောင်း၊ မိမိနှစ်
လုံးတော်ကိုသူတို့ဘက်သို့ကူးစေတော်မူ၏။

၇

၁-၆ ထိုနောက်၊ပေရသိရှင်ဘုရင်အာတဇေရဇ်

ထက်ထက်၌၊ ယဇ်ပုရောဟိတ်အကြီး အာရုန်၊
ဧလာဇာ၊ ဖိနေဟတ်၊အဘိရှု၊ ဗုက္ကိ၊ဥဇ္ဇိ၊ ဇေရ
ဟိ၊ မေရာယုတ်၊အာဇရိ၊အာမရိ၊ အဟိတုတ်၊
ဇာဒုတ်၊ ရှလ္လုံ၊ဟိလခိ၊ အာဇရိ၊ စရာယ၏ဖြ
၆ ဆင်းသက်သောသူ၊-ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရား ပေးတော် မူသော မောရှေ
၏ပညတ်ကျမ်းစာကို လေ့ကျက်သောဆရာဖြစ်
သောသူ၊ ဧဇရသည်ဗာဗုလုန်မြို့မှ ထွက်သွား
၏၊ထိုသူတောင်းသမျှကို၊ သူ၏ဘုရားသခင်ထာ
ဝရဘုရား တန်ခိုးတော်ကြောင့်၊ ရှင်ဘုရင် ပေး
၇ သနားတော်မူ၏။- အာတဇေရဇ်မင်းကြီးနန်းစံ
ခုနှစ်နှစ်တွင်၊အချို့သောဣသရေလအမျိုးသား
ယဇ်ပုရောဟိတ်၊လေဝိသား၊ သီချင်းသည်၊တံ
ခါးစောင့်၊ ဘုရားကျွန်တို့သည်လည်း၊ ယေရုရှ
၈ လင်မြို့သို့ လိုက်သွားကြ၏။- ရှင်ဘုရင် နန်းစံခု
နှစ်နှစ်၊ ပဉ္စမလတွင်ဧဇရသည်ယေရုရှလင်မြို့
၉ သို့ရောက်လေ၏။- ပဌမလအရက်နေ့တွင်၊ ဗာ
ဗုလုန်မြို့မှထွက်၍၊ပဉ္စမလတရက်နေ့တွင်၊မိမိ
ဘုရားသခင်တန်ခိုးကျေးဇူးတော်ကြောင့်၊ယေ
၁၀ ရုရှလင် မြို့ သို့ ရောက် သော ၏။- အကြောင်း မူ
ကား၊ ဧဇရသည်ထာဝရဘုရား၏ တရားတော်
ကိုစစ်ဆေးစောင့်ရှောက်ခြင်းငှါ၎င်း၊ ဓိရင်ထုံးဖွဲ့
တော်မူချက်တို့ကို၊ ဣသရေလအမျိုး၌သွန်သင်
ခြင်းငှါ၎င်း၊သဘောကျသောသူဖြစ်၏။
၁၁ ထာဝရဘုရား၏ ပညတ်စကားနှင့်၊ ဣသရေ
လအမျိုး၌ ထုံးဖွဲ့တော်မူချက်တို့ကို၊ လေ့ကျက်
သော ဆရာယဇ်ပုရောဟိတ်ဧဇရအား၊ အာတ
ဇေရဇ် မင်းကြီး ပေးတော် မူသော အမိန့် တော်
၁၂ စာချက်ဟူမူကား၊-ဘုရင်တို့၏ဘုရင်အာတဇေ
ရဇ်သည် ကောင်းကင်ဘုံ၏ အရှင်ဘုရားသခင်
တရားကျမ်းဘတ်ဆရာ၊ ယဇ်ပုရောဟိတ်ဧဇရ
၌ခပ်သိမ်းသော မင်္ဂလာ ဖြစ်စေသော ဟူ၍၊ ဤ
၁၃ မည်သော ကာလတွင် မှာလိုက်၏။- ငါနိုင်ငံ၌ ရှိ
သောဣသရေလအမျိုးသား၊ ယဇ်ပုရောဟိတ်၊
လေဝိသားတို့တွင်ယေရုရှလင်မြို့သို့ ကိုယ်အလို
အလျောက် သွား ချင် သော သူရှိ သမျှ တို့သည်၊
သင်နှင့် အတူ လိုက် သွား ရမည်အကြောင်း၊ ငါ
၁၄ အမိန့် တော် ရှိ၏။- အကြောင်း မူကား၊ သင်၏
ဘုရားသခင် တရားကို သင်လေ့ကျက်သည် အ
တိုင်း၊ ယုဒ ပြည် ယေရုရှလင် မြို့၌ တရား အမှု
၁၅ များကိုလေ့ပြန်စစ်ဆေးစေခြင်းငှါ၎င်း-ယေရုရှ
လင် မြို့မှာ ကျိန်းဝပ်တော် မူသော ဣသရေလ

အမျိုး၏ဘုရားသခင်အား၊ ရှင်ဘုရင်နှင့်အတွင်း
ဝန်တို့သည်ကြည်ညိုသောစိတ်နှင့် ပူဇော်သော
၁၆ ရွှေငွေနှင့်တကွ– ဗာဗုလုန်ပြည်၌ ထင်ရှား
ရောပတိတ်တို့သည်ယေရုရှလင်မြို့၏ဘုရားအိမ်
တော်အဖို့၊ အလိုလိုလှူ၍ဗာဗုလုန်ပြည်၌ ထင်
ရနိုင်သမျှသော ရွှေငွေကို ဆောင်သွား စေခြင်း
ငှါလည်း၊ ရှင်ဘုရင် နှင့် အတွင်း ဝန် ၇ နှစ် ပါး စေ
၁၇ လွှတ်၏။–ထိုငွေကိုယူပြီးလျှင်နွားသိုး ထီးသိုး
သငယ်နှင့်တကွ၊ ထောပတ်သည်ပူဇော်သကာ၊ သွန်း
လောင်းရာ ပူဇော် သကာ တို့ကို အလျှင်အမြန်
ဝယ်၍၊ ယေရုရှလင်မြို့၌ရှိသောသင်တို့၏ဘုရား
အိမ်တော် ယဇ်ပလ္လင် ပေါ်မှာ ပူဇော်ရမည်။–
၁၈ ကျန်ကြွင်းသောရွှေငွေကိုသင်နှင့်သင့်ညီအစ်ကို
တို့ပြုချင်သမျှအတိုင်း၊ သင်တို့၏ဘုရားသခင်အ
၁၉ လိုတော်နှင့်အညီပြုလော့။– သင်၏ဘုရား အိမ်
တော်ဝတ်ပြုစရာဖို့၊ သင်၌ အပ်ပေးသောတန်
ဆာ များ ကို လည်း၊ ယေရုရှလင် မြို့၏ ဘုရား
၂၀ သခင်ရှေ့တော်တွင်သိုထားလော့။–သင်၏ဘုရား
သခင်အိမ်တော်အဖို့လိုသေးသောအရာ၊ ဝယ်
သင့်သမျှတို့ကိုဘဏ္ဍာတော်ထဲကထုတ်၍ဝယ်
၂၁ လော့။– ကောင်းကင်ဘုံ၏ အရှင် ဘုရား သခင်
တရားကိုလေ့ကျက်သောဆရာ၊ ယဇ်ပုရောဟိတ်
၂၂ ဧဇရ တောင်းသမျှ အ တိုင်း– ငွေ အ ခွက် တ
ထောင်၊ ဂျုံဆန်ကောရတရာ၊ စပျစ်ရည်ဗတ်တ
ရာ၊ ဆီဗတ်တရာနှင့်တကွဆားမည်မျှမဆို၊ မြစ်
အနောက်ဘက်၌နေသောအခွန်ဝန်အပေါင်းတို့
သည် အလျှင်အမြန် ပေးရမည်အကြောင်း၊ ငါ
ရှင် ဘုရင် အာတဇေရဇ် အမိန့် တော် ရှိ ၏။–
၂၃ ကောင်းကင်ဘုံ၏ အရှင် ဘုရားသခင် မှာထား
တော် မူသမျှ အတိုင်း၊ ထို ဘုရား သခင်၏ အိမ်
တော်အဖို့ကြိုးစား၍ လုပ်ဆောင်စေ။ ရှင်ဘုရင်
နှင့်သူ့တော်မျိုးတော်အပေါ်သို့အဘယ်ကြောင့်
၂၄ အမျက်တော်သက်ရောက်ရမည်နည်း။–ထိုမှတ
ပါး၊ ယဇ်ပုရောဟိတ်၊ လေဝိသား၊ သီခြင်းသည်၊
တံခါးစောင့်၊ ဘုရားကျွန်၊ ဘုရားသခင်၏ အိမ်
တော်အမှုစောင့်တစုံတယောက်၌မျှငွေတော်ကို
မခွဲစေနှင့်။ အခွန်တော် အကောက်တော်ကိုမခံ
၂၅ မယူစေနှင့်ဟု ငါမှာလိုက်၏။– သင်ဧဇရသည်
လည်း၊ သင်၏ဘုရားသခင် တရားကို နားလည်
သောမြစ်အနောက်ဘက်သားအပေါင်းတို့တွင်၊
တရားမှုကိုစီရင်စေခြင်းငှါလည်း၊ မသိသောသူတို့
ကို ထွန်းသင် စေခြင်းငှါလည်း၊ မင်းများ၊ တရားသူ
ကြီးများကို ထင်၍ ဘုရားသခင်ပညာတော် နှင့်သင်
၂၆ ပြည့်စုံသည် အတိုင်း ခန့်ထားလော့။– သင်၏
ဘုရားသခင်တရားနှင့် ရှင်ဘုရင်အမိန့်တော်ကို
ဖြင်းဆန်သော သူမည်သည်ကား၊ အသေသတ်
ခြင်း၊ နှင်ထုတ်ခြင်း၊ ဥစ္စာသိမ်းယူခြင်း၊ ထောင်
ထဲမှာ လှောင်ထားခြင်း တည်းဟူသော ရာဇ
ဝတ်တစုံတခုကို အလျှင်အမြန် ခံစေဟု၊ အမိန့်
တော်စာ၌ပါသတည်း။
၂၇ ယေရုရှလင် မြို့၏ မိတ်မှန်တော်ကို တင့်တယ်
စေမည် အကြံကို၊ ရှင်ဘုရင် စိတ်နှလုံး ထဲသို့
သွင်းပေးတော်မူထသော၊ ရှင်ဘုရင်ရှေ့၊ အတွင်း
ဝန်များ၊ ဗိုလ်မင်းများရှေ့မှာ၊ ငါ့အားမေတ္တာပေး
တော်မူသောဘိုးဘေးတို့၏ဘုရားသခင်ထာဝရ
၂၈ ဘုရားသည်မင်္ဂလာရှိတော်မူစေသတည်း။–ထို
သို့ငါ၏ဘုရားသခင်ထာဝရဘုရားတန်ခိုးတော်
ကြောင့်၊ ငါသည်ခွန်အားရှိ၍၊ ငါနှင့်အတူလိုက်
သွားရသော ဣသရေလအမျိုး အကြီးအကဲ တို့
ကိုစုဝေးစေ၏။

၈

၁ အာတဇေရဇ် မင်းကြီးလက်ထက် ၌၊ ငါနှင့်
အတူ ဗာဗုလုန်မြို့မှ ထွက်သွားသောသူ အဆွေ
အမျိုးသူကြီးတို့၏သားစဉ်မြေးဆက်စာရင်းဟူ
၂ မူကား၊–ဖိနဟတ်အမျိုးဂေရရှုံ၊ ဣသမာအမျိုး
၃ ဒံယေလ၊ ဒါဝိဒ်အမျိုးဟတ္တုတ်၊– ရှေခနိအမျိုး၊
ဖာရုတ် အ နွယ်ထဲက ဇာခရိနှင့် စာရင်းဝင်သူ
၄ ယောကျ်ားပေါင်းတရာငါးကျိပ်၊– ပါဟတ်မော
ဘအမျိုး၊ ဇေရာယသားဧလျော နဲ့နှင့်ယောကျ်ား
၅ ပေါင်းနှစ်ရာ၊–ရှေခနိအမျိုး၊ ယာဟာဇေလသား
၆ နှင့် ယောကျ်ား ပေါင်းသုံးရာ၊– အာဒိန် အမျိုး၊
ယောနသန်သား ဧဗက် နှင့် ယောကျ်ား ပေါင်း
၇ ငါးကျိပ်၊–ဧလံအမျိုး၊ အာသလိသားယေရှာယ
၈ နှင့်ယောကျ်ားပေါင်းခုနစ်ကျိပ်၊–ရှေဖတိအ မျိုး၊
မိက္ခေလသား ဇေဗဒိနှင့်ယောကျ်ားပေါင်းရှစ်
၉ ကျိပ်၊–ယွာဘအမျိုး၊ ယေဟေလသားဩဗဒိနှင့်
ယောကျ်ား ပေါင်းနှစ်ရာ တကျိပ် ရှစ်ယောက်၊–
၁၀ ရှေ လော မိတ် အ မျိုး၊ ယော သိဖိ သား နှင့်
၁၁ ယောကျ်ားပေါင်းတရာခြောက်ကျိပ်၊–ဗေဗဲအ
မျိုး၊ ဗေဗဲသားဇာခရိနှင့်ယောကျ်ားပေါင်းနှစ်
၁၂ ကျိပ်ရှစ်ယောက်၊–အာဇဂဒ်အမျိုး၊ ဟက္ကတန်
သားယောဟနန်နှင့် ယောကျ်ားပေါင်းတရာတ
၁၃ ကျိပ်၊– အဒေါနိကံ အမျိုးသား တို့တွင်၊ နောက်
ကျသောသူ၊ ဧလိဖလက်၊ ယေယေလ၊ ရှေမာယ

၁၄ နှင့် ယောက်ျားပေါင်း ခြောက်ကျိပ်၊- ဗိဂဝဲအမျိုးသားဥသဲ၊ ဇဗ္ဗုဒ်နှင့်ယောက်ျားပေါင်းခုနှစ်ကျိပ်တည်း။
၁၅ ထိုလူများတို့ကိုအဟာဝမြို့သို့စီးသောမြစ်နားမှာငါစုဝေးစေ၍၊ သုံးရက် ပတ်လုံး ထဲ၌နေကြ၏။ လူ များနှင့်ယဇ်ပုရောဟိတ်များတို့ကိုငါစစ်ဆေး၍၊ လေဝိသားတယောက်ကိုမျှမတွေ့သော
၁၆ အခါ၊ လူကြီးဧလျေဇာ၊ အရေလ၊ ရှေမာယ၊ နာသန်၊ ဧလနသန်၊ ယာရိပ်၊ ဧလနာသန်၊ နာသန်၊ ဇာခရိ၊ မေရှုလံ၊ ပညာရှိယာရိပ်၊ ဧလနာ
၁၇ သန်တို့ကိုခေါ်၍၊-ကသိဖိမြို့သူကြီးဣဒေါထံသို့ မှာစာနှင့်စေလွှတ်လျက်၊ ဣဒေါနှင့်ကသိဖိမြို့မှာ နေသောသူ၏ညီအစ်ကိုဘုရားကျွန်တို့သည်၊ ငါ တို့ဘုရားသခင်အိမ်တော်အမှုစောင့်များကိုပေး စေခြင်းငှါ၊သူတို့အားအဘယ်သို့ပြောဆိုရမည်
၁၈ ကိုငါမှာလိုက်၏။-ထိုသူတို့သည်ငါတို့၏ဘုရား သခင်တန်ခိုးကျေးဇူးတော်ကြောင့်၊ဣသရေလ သားလေဝိ၏သားမဟာလိအမျိုးသား၊ ပညာရှိ တယောက်၊ရှေရဘိနှင့်သူ၏ပေါက်ဖော်တကျိပ်
၁၉ ရှစ်ယောက်၊- ဟာရှဘိနှင့် မေရာရိအမျိုးယေ ရှာယနှင့်သူ၏ပေါက်ဖော်နှစ်ကျိပ်။- လေဝိသား တို့အမှုကို ဆောင်ရွက် စေခြင်းငှါ၊ ဒါဝိဒ်နှင့် မှူး တော်မတ်တော် ခန့်ထားသော ဘုရားကျွန်များ၊ စာရင်း ဝင်သည်အတိုင်း၊ နှစ်ရာနှစ်ကျိပ်တို့ကို ခေါ်ခဲ့ကြ၏။
၂၁ ထိုအခါဥစ္စာများမှစ၍သူငယ်များနှင့်တကွ၊ ငါတို့သွားစရာမှန်သောလမ်းကို ဘုရားသခင်၌ ရှာ၍၊ရှေ့တော်မှာငြိမ်ခြင်းငှါ၊အဟာ ဝမြစ်နားတွင်၊အစာရှောင်ရာအချိန်ကိုငါကြော်
၂၂ ညာ၏။-အကြောင်းမူကား၊ ကျွန်တော်တို့ဘုရား သခင်ကိုရှာသော သူအပေါင်းတို့သည်၊ တန်ခိုး ကျေးဇူးတော်ကိုခံရကြလိမ့်မည်။ ကိုယ်တော် ကိုစွန့်သော သူအပေါင်း တို့ကို၊ တန်ခိုး တော် ဆီးတား၍ အမျက်တော်သက်ရောက်လိမ့်မည် ဟု၊ ငါတို့သည် ရှင်ဘုရင် အား လျှောက် ထား သောကြောင့်၊ လမ်းတွင် ရန်သူသက် နှင့် လွတ် စေခြင်းငှါ လိုက်၍ မို့ရသောစစ်သူရဲ၊ မြင်းစီး သူရဲတတပ်ကို ရှင်ဘုရင်၌ မတောင်းဝံ့၊ ရှက်ကြ
၂၃ ၏။- ထိုအမှုကြောင့်၊ ငါတို့သည်အစာရှောင်၍၊ ငါတို့ဘုရားသခင်ကို ဆုတောင်းလျက်နေကြ၏။ ဘုရားသခင်ထည်းနားထောင်တော်မူ၏။
၂၄ ထိုအခါ ယဇ်ပုရောဟိတ် အကြီး တကျိပ်နှစ် ပါး၊ ရှေရဘိ၊ ဟာရှဘိနှင့် သူ၏ညီ အစ်ကိုတ
၂၅ ကျိပ်ကိုငါရွေးထား၍ပြီးလျှင်-ရှင်ဘုရင်မှစ၍အ တွင်းဝန်၊ မှူးတော်မတ်တော်၊ စည်းဝေးသောဣ သရေလအမျိုးသား အပေါင်းတို့သည်၊ငါတို့၏ ဘုရားသခင် အိမ်တော်အဖို့ လှူသော ပူဇော်သ
၂၆ က္ကာ၊ ရွှေ၊ ငွေ၊ တန်ဆာ တည်း ဟူသော- ငွေအ ခွက် ခြောက် ထောင် ငါး ဗိသာ၊ ငွေ တန်ဆာ
၂၇ အခွက်တထောင်၊ရွှေအခွက်တထောင်၊-ရွှေဒင်္ဂါး တထောင်အဖိုးနှိုးသော ရွှေ အင်တုံနှစ်ဆယ်၊ ရွှေ နှင့်အမျှဖြိုက်သောရွှေကြေးဝါစစ်စသားနှစ်လုံး
၂၈ တို့ကိုငါချိန်၍အပ်လျက်- သင်တို့သည်ထာဝရ ဘုရားအဖို့သန့်ရှင်းကြ၏။ ဤတန်ဆာ တို့သည် ထည်း။ သန့်ရှင်းသောတန်ဆာဖြစ်ကြ၏။ဤငွေ နှင့် ဤရွှေသည်ထည်း၊ ဘိုးဘေးတို့၏ ဘုရားသ ခင်ထာဝရဘုရားအား ကြည်ညိုသော စိတ်နှင့်
၂၉ လှူသောရွှေငွေဖြစ်၏။- ယေရုရှလင်မြို့၊ ထာဝရ ဘုရား၏ အိမ်တော် အခန်းတို့တွင် ယဇ် ပရော ဟိတ်အကြီး၊ လေဝိသား၊ ဣသရေလ အဆွေအ မျိုးသူကြီးတို့ရှေ့မှာ မချိန်မှီတိုင်အောင်၊ ကြည့်
၃၀ ရှုစောင့်ရှောက်ကြလော့ဟု မှာထား၏။- ထိုသို့ ချိန်သောရွှေ၊ ငွေ၊တန်ဆာတို့ကိုယေရုရှလင်မြို့ ငါတို့၏ဘုရားသခင် အိမ်တော်သို့ ပို့ဆောင်ခြင်း ငှါ၊ ယဇ်ပုရောဟိတ်နှင့် လေဝိသားတို့သည်ခံ ယူကြ၏။
၃၁ ပဌမလ၊ တဆယ်နှစ်ရက်နေ့တွင်၊ငါတို့သည် အဟာဝမြစ်မှထွက်၍၊ ယေရုရှလင်မြို့သို့ ချီး သွားကြ၏။ လမ်းနားခွ၌ချောင်း၍နေသောရန်သူ လက် မှ၊ ငါတို့၏ ဘုရား သခင် တန်ခိုး တော်
၃၂ ကြောင့်လွတ်လျက်-ယေရုရှလင်မြို့သို့ရောက်၍ သုံးရက်နေကြ၏။
၃၃ စတုတ္ထနေ့တွင် ငါတို့ဘုရားသခင်၏အိမ်တော် ၌၊ ဥရိယတ်သားယောရှနှင့်လေဝိအမျိုးယော ရှသားယောဇဗဒ်၊ ဗိန္နုသားနောဒိတို့သည်ရှိနေ
၃၄ ၍ကြည့်ရှုလျက်၊-ဥရိသားယဇ်ပုရောဟိတ်မေ ရမုတ်သည်ထိုရွှေ၊ငွေ၊ တန်ဆာရှိသမျှတို့ကိုရေ တွက်ချိန်တွယ်၍ တနေ့ချင်းတွင်၊အချိန်ပေါင်း
၃၅ ကိုမှတ်သားလေ၏။- သိမ်း သွားခြင်း ကို ခံရ သော လူစု ထဲက ထွက် လာသော သူတို့ သည် လည်း၊ ဣသရေလ အမျိုး များ တို့ အဖို့ နွား တ ဆယ် နှစ် ကောင်၊ သိုးထီး ကိုး ဆယ် ခြောက် ကောင်၊ သိုးသငယ်ခုနှစ်ဆယ်ခုနှစ်ကောင်၊ အ ပြစ်ဖြေရာ ယဇ်ဘို့ ဆိတ်တဆယ် နှစ်ကောင်တို့ ကို၊ ဣသရေလအမျိုး၏ ဘုရားသခင် ထာဝရ

၃၆ ဘုရားအား မီးရှို့ရာ ယဇ်ကို ပူဇော်ကြ၏။- ရှင်
ဘုရင် အမိန့်တော် အမှာတော်တို့ကို ကိုယ်စား
တော်မင်း၊ မြစ်အနောက်ဘက်မြို့ဝန်တို့၌အပ်၍၊
သူတို့သည် ဣသရေလ အမျိုး နှင့် ဘုရား သခင်
အိမ်တော်ကိုပြုစုကြ၏။

၉

၁ ထိုအမှုပြီးမှ၊ အကြီးအကဲ တို့သည် ငါ့ထံသို့
လာ၍ယဇ်ပရောဟိတ်၊ လေဝိသားအစရှိသော
ဣသရေလ အမျိုး သား တို့သည် ဤပြည် သား
ရင်းတို့နှင့်ပေါင်းဖော်သဖြင့်၊ ခါနာန်လူ၊ ဟိတ္တိ
လူ၊ဖေရဇိလူ၊ယေဗုသိလူ၊အမ္မုန်လူ၊မောဘလူ၊
အဲဂုတ္တုလူ၊ အာမောရိလူတို့ ရှံရှာဖွယ်သောအ
၂ ကျင့်ကိုကျင့်ကြပါ၏။-အကြောင်းမူကား၊သူတို့
သမီးများကိုကိုယ်တိုင်၎င်း၊ ကိုယ်သားတို့၎င်းသိမ်း
ယူသဖြင့်၊ သန့်ရှင်းသော အမျိုးသည် ဤပြည်
သားရင်းအမျိုးနှင့် ရောနှောလျက်ရှိ၍၊ အကြီး
အကဲနှင့် မင်းအရာရှိတို့သည်၊ ဤဒုစရိုက်အမှု
ကိုအဦး ပြုကြပြီတကားဟု ကြားပြောကြ၏။-
၃ ထိုစကားကို ငါကြားလျှင် အတွင်းအဝတ်၊ ပြင်
အဝတ်ကိုဆုတ်၍ ဆံပင်နှင့်မုတ်ဆိတ်ကိုနှုတ်ပြစ်
၄ လျက်၊ မိန်းမောတွေဝေ လျက် ထိုင်နေ၏။- ထို
အခါ ဣသရေလအမျိုး၏ ဘုရားသခင်ထာဝရ
ဘုရား အမိန့် တော် ကို ကြောက် ရွံ့ သော သူ အ
ပေါင်းတို့သည်၊ သိမ်းသွားခြင်းကို ခံရသောသူ
တို့ပြစ်မှား သော အပြစ်ကြောင့်၊ ငါ့ထံမှာ စည်း
ဝေး၍၊ ညဦးယံယဇ်ပူဇော်ချိန် တိုင်အောင်ငါ
သည်မိန်းမောတွေဝေလျက်နေ၏။
၅ ညဦးယံ ယဇ်ပူဇော်ချိန်တွင်၊ စိတ်ပျက်ရာ မှ
ထ၍ အတွင်းအဝတ်၊ ပြင်အဝတ်ကို ဆုတ်ပြီး
လျှင်၊ ဒူးထောက်၍၊ ငါ၏ဘုရားသခင် ထာဝရ
၆ ဘုရားထံတော်သို့ထက်ဝါးတို့ကိုဖြန့်လျက်-အို
အကျွန်ုပ်ဘုရားသခင်၊ ကိုယ်တော်သို့ မမျှော်မ
ကြည့်ဝံ့၊ ရှက်ကြောက်၍ မျက် နှာ နီပါ၏။ အ
ကျွန်ုပ် ဘုရားသခင်၊ အကျွန်ုပ်တို့ ပြုမိသော ဒုစ
ရိုက်တို့သည်အကျွန်ုပ်တို့ ခေါင်းပေါ်မှာအထပ်
ထပ်သွမ်းမိုး၍၊ကြီးစွာသောအပြစ်သည်မိုးဆီး
၇ ကောင်းကင်သို့ရှိပါ၏။-ဘိုးဘေးလက်ထက်မှစ
၍ယနေ့တိုင်အောင်၊အသွန်ပြစ်မှားပါပြီ။ကိုယ်
အပြစ်ကြောင့်ရှင်ဘုရင်နှင့်ယဇ်ပရောဟိတ်မှစ
၍၊ အကျွန်ုပ်တို့သည် ယနေ့ တိုင်အောင် ခံသကဲ့
သို့၊ တပါး အမျိုး သား ရှင်ဘုရင် လက်သို့ အပ်
ခြင်း၊ အသေ သတ် ခြင်း၊ သိမ်း သွား ခြင်း၊ လု
၈ ယက်ခြင်း၊ မျက်နှာပျက်ခြင်းကိုခံရပါ၏။- ယခု
ခဏတွင်၊ အကျွန်ုပ်တို့၏ ဘုရား သခင် ထာဝရ
ဘုရားသည်၊အကျွန်ုပ်တို့ကိုထေးမွဲ့လွှတ်၍ကျန်
ကြွင်းစေလျက်၊ သန့်ရှင်း သော ဌာနတော်၌ စွဲ
ထားသော တံသိုကို ပေးတော်မူသော ကျေးဇူး
တော်ကြီးရှိပါ၏။အကျွန်ုပ်တို့ဘုရားသခင်သည်
အကျွန်ုပ်တို့ မျက်စိကို လင်း စေ၍၊ အကျွန်ုပ် တို့
ကျွန်ခံရာ၌၊ အသက်ရှုပြန်ရသော အခွင့်ကို
၉ ပေးတော်မူပြီ။- အကျွန်ုပ်တို့သည်ကျွန်ခံလျက်
နေရပါ၏၊ ထိုသို့ကျွန်ခံလျက် နေရသော်လည်း၊
အကျွန်ုပ်တို့၏ဘုရားသခင်သည်စွန့်ပြစ်တော်မ
မူ။ အကျွန်ုပ် တို့ အသက် လွတ် ခြင်း ငှါ ၎င်း၊ အ
ကျွန်ုပ်တို့ဘုရားသခင်၏အိမ်တော်ကိုထူထောင်
၍၊ ပြိုပျက်ရာတို့ကိုပြုပြင်ခြင်းငှါ၎င်း၊ ယုဒပြည်
ယေရုရှလင်မြို့၌ခိုလှုံရာအရပ်ကိုအကျွန်ုပ်အား
ပေး ခြင်း ငှါ၎င်း၊ ပေရသိ ရှင် ဘုရင် တို့သည် အ
ကျွန်ုပ်တို့၌ကျေးဇူးပြုချင်သောစေတနာစိတ်ကို
၁၀ ပေးသနားတော်မူပြီ။- ယခုလည်း အိုအကျွန်ုပ်
၁၁ တို့၏ ဘုရားသခင်၊ ဤသို့ပြုမိပြီးမှ၊ အဘယ်သို့
၁၂ လျှောက်ရပါမည်နည်း။ကိုယ်တော်က၊သင်တို့
သွား၍သိမ်းယူလတံ့သောပြည်သည်၊ ပြည်သူ
ပြည်သား တို့ အညစ် အကြေး ကြောင့် ညစ်ညူး
သောပြည်ဖြစ်၏။ တပြည်လုံးကို ရှံရှာဖွယ် အမှု
တို့နှင့်ပြည့်စေကြပြီ။သို့ဖြစ်၍၊ သင်တို့သမီးကိုသူ
တို့သားအား မပေး စားကြနှင့်။ သူတို့၏ သမီးကို
သင်းတို့ သားနှင့် မစုံဖက်စေကြနှင့်။ သူတို့ချမ်း
သာနှင့်သူတို့စည်းစိမ်ကိုအလျှင်းမပြုစုကြနှင့်။
သင်တို့သည် ခွန်အားကြီး၍ မြေအသီးအနှံ ကို
စားရသောအခွင့်၊ ထိုမြေကိုကိုယ်သားမြေးတို့
၌နိစ္စအမွေမြေဖြစ်စေ၍၊ အပ်ရသောအခွင့်ရှိစေ
ခြင်းငှါ၊ ထိုသို့ကျင့်၍နေကြလော့ဟုကိုယ်တော်
ကျွန်၊ ပရောဖက်တို့ အားဖြင့် မှာထားတော် မူ
သောပညတ်စကားတော်ကို၊ အကျွန်ုပ်တို့သည်
၁၃ နားမထောင်ပါ တကား။- အကျွန်ုပ်တို့၏ ဘုရား
သခင်ထာဝရဘုရားတဦးဟူသော၊ကိုယ်တော်
သည် အကျွန်ုပ်တို့ခံထိုက်သမျှသောအပြစ်ဒဏ်
ကိုပေးတော်မမူသော်လည်း၊ အကျွန်ုပ်တို့သည်
ကိုယ်တိုင် ပြုမိသော ဒုစရိုက်အမှု၊ ကြီးစွာသော
သွန်ကျူးခြင်းအပြစ်ကြောင့်၊ ဤမျှလောက်ခံရ
ပြီးမှ၎င်း၊ ကိုယ် တော်သည် ဤမျှလောက် ချမ်း
၁၄ သာ ပေးတော် မူပြီး မှ၎င်း- အကျွန်ုပ် တို့ သည်
ပညတ်တရားတော်တို့ကိုတဖန် သွန်ကျူး၍၊ ဤ

ဤရှာ ဋ္ဌယ် အမှု တို့ကို ပြုတတ် သော လူမျိုး နှင့်
ပေါင်း ဖော်လျှင် တယောက်မျှ မလွတ်၊ မကျန်
ကြွင်းစေခြင်းငှါ၊ အမျက်တော်ထွက်၍အကျွန်ုပ်
၁၅ ထိုကိုဖျက်ဆီးတော်မူမည်မဟုတ်လော။- ဣ
သရေလအမျိုး၏ ဘုရား သခင် ထာဝရ ဘုရား၊
ကိုယ်တော်သည်ဖြောင့်မတ်တော်မူ၏။ အကျွန်ုပ်
တို့ သည် ယနေ့ အ သက် လွတ် ၍၊ ကျန် ကြွင်း
သေးသောသူဖြစ်ပါ၏။ ကိုယ်အပြစ်များကို ရှေ့
တော်၌ တောင်းပန်ပါ၏။ ထိုအပြစ်ကြောင့်၊ ရှေ့
တော်၌ နေရာ မရ နိုင် ပါ ဟု တောင်း လျှောက်
လေ၏။

၁၀

၁ ထိုသို့ ဧဇရ သည် ဘုရား သခင်၏ အိမ်တော်
ရှေ့မှာပြပ်ဝပ်လျက်၊ မျက်ရည်ကျလျက်တောင်း
ပန်၍ ပဋ္ဌနာပြုသောအခါ၊ အလွန် များစွာသော
ပရိသတ်၊ ဣသရေလ အမျိုး ယောကျ်ား၊ မိန်းမ၊
သူငယ်တို့သည်ဧဇရထံမှာစည်းဝေး၍ အလွန်
၂ ငိုကြွေးကြ၏။- ဧလံအမျိုး၊ ယေဟေလသား၊ ရှေ
ကနိကလည်း၊ ငါတို့သည်ကိုယ်ဘုရားသခင်ကို
ပြစ်မှား၍၊ ဤပြည်၌နေသောတပါး အမျိုးသား
မိန်းမတို့နှင့် စုံဘက်ကြပြီ။ သို့ရာတွင်၊ ဤအမှုမှာ ဣ
၃ သရေလအမျိုးမျှော်လင့်စရာရှိသေး၏။- သို့ဖြစ်
၍၊ အရှင်ဘုရားအစရှိသော၊ ငါတို့ဘုရားသခင်
၏ပညတ်တရားကိုကြောက်ရွံ့သောသူတို့သတိ
ပေးသည်အတိုင်း၊ ဤမိန်းမများနှင့်သူတို့သားသမီး
များရှိသမျှကိုစွန့်ပယ်မည်ဟု၊ ငါတို့၏ဘုရားသ
ခင်ရှေ့တော်၌အမိန့်ဌာန်ပြုကြကုန်အံ့။ ဤအမှုကို
၄ တရား ရှိသည် အတိုင်း၊ စီရင် ကြကုန်အံ့။- ထ
တော်မူပါ။ ဤအမှုကို ကိုယ်တော် ဆိုင်ပါ၏၊ အ
ကျွန်ုပ်တို့သည် လည်း၊ ဝိုင်း၍မစကြပါ မည်။ ရဲ
ရင့်သော စိတ် ရှိ၍ ပြုတော်မူပါဟု၊ ဧဇရ အား
၅ ပြန်ပြောကြလျှင်- ဧဇရသည်ထ၍ယဇ်ပုရော
ဟိတ်အကြီး၊ လေဝိသား၊ ဣသရေလအမျိုးသား
အပေါင်း တို့သည်၊ ထိုစကား အတိုင်း ပြုရမည်
အ ကြောင်း၊ သူ တို့ အား အကျိန် ပေး ၍ သူတို့
သည်ကျိန်ဆိုကြ၏။
၆ ထိုအခါဧဇရသည်ဘုရားသခင်၏အိမ်တော်
ရှေ့ကထ၍၊ ဧလျာရှိပ် သား ယောဟာနန် အခန်း
သို့သွား၏။ ရောက်သောအခါ မုန့်ကိုမစား၊ ရေ
ကိုမသောက်ဘဲနေ၏။ အကြောင်း မူကား၊ သိမ်း
သွား ခြင်း ကို ခံ ဘူး သော သူ တို့ ပြစ် မှား သော
အပြစ်ကြောင့် ညည်းတွား မြည်တမ်း လေ၏။-
၇ သိမ်း သွား ခြင်းကို ခံရသော အမျိုး သား အ
ပေါင်းတို့သည်၊ ယေရုရှလင် မြို့သို့ စည်းဝေး
၈ မည်အကြောင်း၊- မင်းများနှင့် အသက်ကြီးသူ
များ စီရင်သည် အတိုင်း၊ သုံးရက် အတွင်းတွင်
မရောက် သော သူ မည်သည်ကား၊ သိမ်း သွား
ခြင်းအမျိုးသား ပရိသတ် ထဲက နှင်ထုတ်ခြင်း
ကို ခံ၍၊ သူ၏ ဥစ္စာ ရှိ သမျှ သည် ကျိန်ဆို အပ်
သောဥစ္စာဖြစ်စေမည် အကြောင်း၊ ယေရုရှလင်
မြို့မှ စ၍ ယုဒ ပြည် တ လျှောက် လုံး၌ ကျော်ညာ
ကြ၏။
၉ ယုဒအမျိုးနှင့်ဗင်္ယာမိန်အမျိုးသားယောကျ်ား
အပေါင်းတို့သည်သုံးရက်အတွင်းတွင်၊ ယေရုရှ
လင်မြို့မှာစည်းဝေး၍ နဝမလ၊ အရက် နှစ်ဆယ်
တွင်၊ လူအပေါင်းတို့သည် ထိုအမှုကြောင့် ရင်၊
သည်းထန်စွာမိုဃ်းရွာသောကြောင့်ရင်၊ တုန်
လှုပ်လျက် ဘုရားသခင်၏ အိမ်တော်ဦး ရှေ့မှာ
၁၀ ထိုင်နေကြ၏။- ထိုအခါ ယဇ်ပုရောဟိတ် ဧဇရ
သည်ထ၍၊ သင်တို့သည်ပြစ်မှားကြပြီ။ ဣသရေ
လအမျိုး၌ အပြစ်ထပ်စေခြင်းငှါ၊ တပါးအမျိုး
၁၁ သားမိန်းမတို့နှင့်စုံဘက်ကြပြီတကား။- သို့ဖြစ်၍၊
ဘိုးဘေးတို့၏ ဘုရားသခင် ထာဝရဘုရားအား
တောင်း ပန် ကြ လော့။ အလို တော် အတိုင်း ပြု
လျက်၊ ဤပြည်သားတို့နှင့်၎င်း၊ တပါးအမျိုးသား
မိန်းမတို့နှင့်၎င်းကွာကြလော့ဟု၊ သူတို့အား ဆို၏။-
၁၂ ပရိသတ် အပေါင်း တို့ကလည်း၊ ကိုယ်တော်
မိန့်တော် မူသည်အတိုင်း၊ အကျွန်ုပ်တို့သည် ပြု
၁၃ ပါမည်။- သို့ရာတွင်၊ လူ အများရှိပါ၏။ သည်း
ထန်စွာမိုဃ်းရွာသောကာလဖြစ်ပါ၏။ အကျွန်ုပ်
တို့ သည် အိမ်ပြင်မှာ မရပ် မနေနိုင်ပါ။ ဤအမှု
သည် တရက် နှစ်ရက်တွင် ပြီးနိုင်သော အမှုမ
၁၄ ဟုတ်ပါ။ ပြစ်မှားသောသူအများရှိပါ၏။- ငါတို့
ပရိသတ် အပေါင်း ကို အုပ် ချုပ် သော အကြီး
အကဲ တို့ သည် စီရင် သဖြင့်၊ တို့ နေရာ မြို့ ရွာ၌
တ ပါး အ မျိုး သား မိန်း နှင့် စုံဘက် သော သူ အ
ပေါင်း တို့သည်၊ ချိန်း ချက်သော အချိန်ထို့၌ မြို့
အသီးအသီးအသက်ကြီးသူများ၊ တရားသူကြီး
များနှင့် အတူ လာ၍၊ ဤ အမှု ကြောင့် ပြင်းစွာ
ထွက်သော ငါတို့ ဘုရား သခင်၏ အမျက် တော်
ကို ပြေကြပါစေဟု၊ ကြီးစွာသော အသံနှင့်ပြန်
ပြောကြ၏။
၁၅ အာသဟေလ သား ယောနသန် နှင့် တိကဝ
သား ယာဇာယ သာလျှင်၊ ထိုအမှုကို ပြုစုကြ၏။

ထေမိထား ဗေရှုထံနှင့်ရှမ္မသဲတို့သည်မိုင်းညီကြ
၁၆ ၏– ထိမ်းမြားခြင်းကိုခံရသောအမျိုးသားတို့
သည်ဝန်ခံကြသည်နှင့်အညီ၊ ယဇ်ပုရောဟိတ်
ဧဇရသည် ရွေးချယ်၍၊ အဆွေအမျိုး အလိုက်
အမည်ရှားကို မှတ်သားသော အဆွေအမျိုးသူ
ကြီးတို့သည်ဒသမလ၊ တရက်နေ့တွင်ထိုအမှုကို
၁၇ စစ်ကြောခြင်းငှါထိုင်နေကြ၏– တပါးအမျိုး
သားမိန်းမနှင့်စုံဖက်သော သူအပေါင်းတို့ကိုပဌမ
လ၊ တရက်နေ့တိုင်အောင်အကုန်အစင်စစ်ကြော
ပြီးရင်ကြ၏။
၁၈ တပါးအမျိုးသားမိန်းမနှင့် စုံဖက်သော ယဇ်ပ
ရောဟိတ် အမျိုးသားဟူမူကား၊ ယောရှုအမျိုး
ယောဇဒက်သားနှင့် သူ၏ညီမာသေယ၊ ဧလျေ
၁၉ ဇာ၊ ယာရိပ်၊ ဂေဒလိတည်း။– သူတို့သည်မယား
နှင့်ကွာမည်ဟုဂတိထားကြ၏။ ပြစ်မှိသောအပြစ်
၂၀ ကြောင့် သိုးကိုယဇ်ပူဇော်ကြ၏။– ထိုမှတပါး၊
၂၁ အိမ်မေရ အမျိုး ဟာနန် နှင့် ဇေဗဒိ၊– ဟာရိမ်
အမျိုး မာသေယ၊ ဧလိယ၊ ရှေမာယ၊ ယေဟေ
၂၂ လ၊ ဩဇိ၊– ပါရှုရအမျိုး ဧလျိဩနဲ၊ မာသေယ၊
ဣရှမေလ၊ နာသနေလ၊ ယောဇဗဒ်၊ ဧလာသ။–
၂၃ လေဝိသား ယောဇဗဒ်၊ ရှိမိ၊ ကေလာယ တည်း
ဟူသောကေလိတ၊ ပေသာဟိ၊ ယုဒ၊ ဧလျေဇာ။–
၂၄ သီချင်းသည် ဧလျာရှိပ်၊ တံခါးစောင့် ရှလ္လုံ၊ တေ
၂၅ လင်၊ ဥရိ၊– ဣသရေလ အမျိုးထဲက ပါရုတ်အ
မျိုး ရာမိ၊ ယေဇိ၊ မာလခိ၊ မျာမိန်၊ ဧလာဇာ၊ မာ
၂၆ လခိယ၊ ဗေနာယ၊– ဧလံအမျိုး မတ္တနိ၊ ဇာခရိ၊
၂၇ ယေဟေလ၊ အာဗဒိ၊ ယေရမုတ်၊ ဧလျာ၊– ဇတ္တု
အမျိုး ဧလျိဩနဲ၊ ဧလျာရှိပ်၊ မတ္တနိ၊ ယေရမုတ်၊
၂၈ ဇာဗဒ်၊ အဇိဇ၊– ဗေဗဲအမျိုး ယောဟနန်၊ ဟာ
၂၉ နနိ၊ ဇဗ္ဗဲ၊ အာသလဲ၊– ဗာနိ အမျိုး မေရှုလံ၊
၃၀ မလ္လုတ်၊ အဒါယ၊ ယာရှုပ်၊ ရှာလ၊ ရာမုတ်၊– ပါ
ဟတ်မောဘအမျိုး အဒန၊ ခေလာလ၊ ဗေနာယ၊
မာသေယ၊ မတ္တနိ၊ ဗေဇလေလ၊ ဗိန္နွိ၊ မနာရှေ၊–
၃၁ ဟာရိမ်အမျိုး ဧလျေဇာ၊ ဣရှိယ၊ မာလခိ၊ ရှေ
၃၂ မာယ၊ ရှိမောင်၊– ဗင်္ယာမိန်၊ မလ္လုတ်၊ ရှေမရိ၊–
၃၃ ဟာရှုံအမျိုး မတ္တနဲ၊ မတ္တသ၊ ဇာဗဒ်၊ ဧလိဖလက်၊
၃၄ ယေရမဲ၊ မနာရှေ၊ ရှိမိ၊– ဗာနိအမျိုး မာဒဲ၊ အာမ
၃၅–၃၆ ရံ၊ ဝေလ၊– ဗေနာယ၊ ဗေဒိ၊ ခေလု၊– ဝါနိ၊ မေ
၃၇ ရမုတ်၊ ဧလျာရှိပ်၊– မတ္တနိ၊ မတ္တနဲ၊ ယာသော၊–
၃၈–၃၉ ထို့ပြင် တပါး ဗာနိ၊ ဗိန္နွိ၊ ရှိမိ၊– ရှေလမိ၊ နာ
၄၀–၄၁ သန်၊ အဒါယ၊– မခနဒေဗဲ၊ ရှာရှဲ၊ ရှာရဲ၊– အာ
၄၂ ဇရေလ၊ ရှေလမိ၊ ရှေမရိ၊– ရှလ္လုံ၊ အာမရိ၊
၄၃ ယောသပ်၊– နေဗောအမျိုး ယေယေလ၊ မတ္တိသိ၊
ဇာဗဒ်၊ ဇေဗိန၊ ယာဒေါ၊ ယောလ၊ ဗေနာယ
၄၄ တည်း။– ဤသူအပေါင်းတို့သည် တပါးအမျိုး
သားမိန်းမနှင့်စုံဖက်၍သားသမီးကိုမြင်ရကြပြီ။

ဧဇရမှတ်စာပြီး၏။

---

# နေဟမိမှတ်စာ၊

## BOOK OF NEHEMIAH.

---

၁

၁ ဟာခလိသား နေဟမိစကားဟူမူကား။ အာ
ဋဋဇေရဇ် မင်းကြီး နန်းစံ နှစ်ဆယ်၊ ခိသလုလ
၂ လွှမ်း၊ ငါသည်ရှုရှန် နန်းတော်၌ ရှိနေစဉ်– ညီ
ဟာနန်နှင့် ယုဒလူအချို့တို့သည်ရောက်လာ၍၊
ငါသည် သိမ်းသွား ခြင်းကို ခံရသော ယုဒလူစု
ထဲက၊ လွတ်သောသူတို့၏အကြောင်းအရာနှင့်၊
ယေရုရှလင်မြို့၏ အကြောင်း၊ အရာကို မေးမြန်း
၃ လျှင်– သူတို့က၊ သိမ်းသွားခြင်းကိုခံရသောလူ
စုထဲကလွတ်၍၊ ထိုပြည်၌ နေသော သူတို့သည်
ကြီးစွာသော ဆင်းရဲခြင်း၊ ကဲ့ရဲ့ခြင်းကို ခံရကြ
၏။ ယေရုရှလင် မြို့ရိုးသည် ပြိုပျက်လျက်၊ မြို့တံ
ခါးတည်းမီးလောင်၍ ကုန်ပြီဟုပြန်ပြောကြ၏။–
၄ ထိုစကားကို ကြားလျှင်၊ ငါသည်ထိုင်၍အင်တန်
ကာလပတ်လုံး ငိုကြွေးမြည်တမ်းလျက်၊ အစာ
ရှောင်လျှက်နေ၍၊ ကောင်းကင်ဘုံ၏အရှင်ဘုရား

သခင် ရှေ့တော်၌ ဆုတောင်းသော ပဌနာ ဟူမူ
၅ ကား၊- ဖိုကောင်းကင်တုံ၏အရှင်ဘုရားသခင်၊
ထာဝရဘုရား၊ ကြီးမြတ်၍ ကြောက်မက် ဖွယ်
သောဘုရား၊ပညတ်တော်တို့ကိုနှစ်သက်၍ကျင့်
စောင့်သောသူတို့နှင့် ဖွဲ့သောဂရုဏာ ပဋိညဉ်
၆ ကိုမဖျက်၊တည်စေတော်မူသောဘုရား၊-ကိုယ်
တော်ကျွန်၊ ဣသရေလ အမျိုးသားတို့ အဖို့၊ ရှေ့
တော်၌နေ့ညဉ့်မပြတ် အကျွန်ုပ်ဆုတောင်း၍၊
ဣသရေလ အ မျိုး သား ဖြစ် သော အကျွန်ုပ် တို့
သည်ကိုယ်တော်ကို ပြစ်မှားမိသောအပြစ်များ
ကို၊ဖော်ပြ၍တောင်းပန်သောကိုယ်တော်ကျွန်၏
ပဌနာ စကားကို ကြားခြင်းငှါ၊ ထာ ရ နားထောင်
၇ ၍စေ့စေ့ကြည့်ရှုတော် မူပါ။- အကျွန်ုပ် နှင့် အ
ကျွန်ုပ်အဆွေ အမျိုးတို့သည်ပြစ်မှားပါပြီ။ကိုယ်
တော်ကို ပြစ်မှား၍၊ အလွန်ဆိုးညစ်သော အမှု
တို့ကိုပြုမိပါပြီ။ ကိုယ်တော်ကျွန်မောရှေ၌ထား
တော်မူသော ပညတ်တရား၊ စီရင်ထုံးဖွဲ့တော်မူ
၈ ချက်တို့ကို မစောင့်ဘဲနေပါပြီ၊- ကိုယ်တော်က၊
၉ သင်တို့သည် လွန်ကျူး လျှင်၊ သင်တို့ကို တပါး
အမျိုးသားတို့တွင် ငါကွဲ ပြားစေမည်။ တဖန် ငါ
ထံသို့ပြန်လာ၍၊ ငပညတ်တို့ကို ကျင့်စောင့်ပြန်
လျှင်၊ မိုဃ်း ကောင်း ကင် အောက် အဝေး ဆုံး
သောအရပ်သို့ နှင်ထုတ်ခြင်းကိုခံရသော်ထဉ်း၊
ထိုအရပ်က ငါသိမ်းယူ၍၊ငနာမတည်ရာအို၊ငါ
ရွေးချယ်သောအရပ်သို့ဆောင်ခဲ့မည်ဟု၊ကိုယ်
တော်ကျွန် မောရှေ၌ ထား တော် မူ သော ဂ တိ
၁၀ တော်ကိုအောင်းမေ့တော်မူပါ။- ယခုမှာ၊ ဤသူ
တို့သည် မဟာ တန်ခိုးတော်နှင့် အားကြီးသော
လက် တော် ဖြင့် ရွေးနှုတ် တော် မူသော ကိုယ်
၁၁ တော်ကျွန်၊ ကိုယ်တော်လူမျိုးဖြစ်ကြပါ၏။- ဖို
ဘုရားရှင်၊ကိုယ်တော်ကျွန်ပြုသောပဌနာစကား
နှင့်နာမတော်ကိုရိုသေချင်သော၊ကျွန်တော်များ
ပြုသောပဌနာစကားကို နားထောင်တော်မူပါ။
ကိုယ်တော်ကျွန်ကိုယနေ့ကောင်းကြီးပေးတော်
မူပါ။ ဤလူရှေ့မှာမျက်နှာရပါမည်အကြောင်း၊
ကယ်မ သနားတော် မူပါဟု ဆုတောင်း သေး၏။
ထိုအခါ ငါသည် ရှင်ဘုရင်၏ ဖလားတော်ကိုင်
ဖြစ်သတည်း။

၂

၁ အာတဇေရဇ်မင်းကြီးနန်းစံ နှစ်ဆယ်၊နိသန်
လတွင်ရှေ့တော်၌တင်သောစပျစ်ရည်ကိုငါကိုင်
၂ ၍ဆက်သေ၏။- အထက်ကတခါမျှရှေ့တော်၌
ညှိုးငယ်သောမျက်နှာကို မပြဘူးသည်ဖြစ်၍၊
ရှင်ဘုရင်က၊ကျန်းမာလျက်နှင့်အဘယ်ကြောင့်
မျက်နှာ ညှိုးငယ်သနည်း၊ ဝမ်းနည်းတန်မှုပါ
၃ ထည်တကားဟု မိန့်တော်မူလျှင်- ငါသည်အ
လွန်ကြောက်၍၊ရှင်ဘုရင်အသက်တော်အစဉ်
အမြဲရှင်ပါစေ။ ကျွန်တော် ဘိုးဘေး သင်းချိုင်း
ရှိရာမြို့သည်ပျက်စီးလျက်၊ မြို့တံခါးထည်းမီး
လောင်၍ ကုန်ပြီ ဖြစ်သောကြောင့်၊ ကျွန်တော်
သည် မျက်နှာမညှိုးငယ်ဘဲအဘယ်သို့ နေနိုင်
၄ ပါမည်နည်းဟု လျှောက်သော်- ရှင်ဘုရင်က၊
၅ အဘယ်သို့ တောင်းလျှောက်ချင်သနည်းဟုမေး
တော်မူ၏။ ငါ ကထည်း၊ အရှင် မင်းကြီး အလို
တော်ရှိ၍ကျွန်တော်ကိုမိတ်နှင့်တွေ့တော်မူလျှင်၊
ကျွန်တော် ဘိုးဘေး သင်းချိုင်း ရှိရာ မြို့ကိုကျွန်
တော် ပြုစု ရမည် အကြောင်း၊ ယုဒပြည်သို့စေ
လွှတ် တော် မူပါဟု၊ ကောင်းကင် ဘုံ ၏ အရှင်
ဘုရားသခင်အားဆုတောင်းပြီးမှလျှောက်လေ
၆ ၏။- ထိုအခါမြောက်သားတော်နှင့် ရှည်ဖြိုင်၍
ထိုင် နေ စဉ်၊ ရှင် ဘုရင် က၊ သင် သွားလျှင် အ
ဘယ်မျှ ကာလ ကြာလိမ့် မည် နည်း။ အဘယ်
ကာလမှပြန်လာမည်နည်းဟုမေးတော်မူသော်၊
ကာလ အချိန် ကို ငါ လျှောက် ထား ပြီးမှ၊ ရှင်
ဘုရင် သည် အလိုတော် ရှိ၍ ငါ ကို လွှတ်လိုက်
၇ တော်မူ၏။- တဖန်တုံ၊ ရှင်ဘုရင် အလိုတော်ရှိ
လျှင်၊ မြစ် အနောက် ထက်၌ ရှိသော မြို့ဝန် တို့
သည်ကျွန်တော်ကိုမဆီးမတား၊ ယေရုရှလင်မြို့
သို့ ပို့ရမည် အကြောင်း၊ အမိန့်တော်စာကို သ
၈ နားတော်မူပါ။- ဥယျာဉ်တော်မှူးအာသပ်သည်
မိတ်မှန်တော်ရဲ့ တိုက်တံခါးတိုင် နှင့် တံခါးထုစ်
တို့ငှင်၊ မြို့ရိုးနှင့် ကျွန်တော် နေရာ အိမ်အို ငှင်၊
သစ်ကို ပေးရမည် အကြောင်း၊ အမိန့်တော်စာ
ကိုထည်းသနားတော်မူပါဟု၊တောင်းလျှောက်
သည် အတိုင်း၊ ငါ၏ဘုရားသခင် တန်ခိုးကျေး
ဇူး တော် ကြောင့်၊ ရှင် ဘုရင် သည် ပေးသနား
တော်မူ၏။
၉ ထိုအခါ မြစ်အနောက်ထက်မြို့ဝန်တို့ထံသို့ငါ
ရောက်၍၊ ရှင်ဘုရင်၏ အမိန့် တော် စာကိုပြ၏။
ရှင်ဘုရင်သည်ထည်း၊ တပ်မှူးနှင့်မြင်းစီးသူရဲ
တို့ကို ငါနှင့်အတူ စေလွှတ်တော် မူ သတည်း။-
၁၀ ဣသရေလ အမျိုး သား တို့ အကျိုး ကို ပြုစုခြင်း
ငှါ၊လူတယောက်လာကြောင်းကို၊ဟောရနိလူ၊
သမ္ဗာလတ် နှင့် ကျွန် ခံ သူ အမ္မုန် အ မျိုး သား

သောသိ ထိုသည် ကြားသော်၊ အလွန်နှမ်းလုံး မ
သာမှုကြ၏။
၁၁ ငါသည်လည်း၊ ယေရုရှလင် မြို့သို့ ရောက်၍
၁၂ သုံးရက်နေပြီးမှ– ကိုယ်နှင့်ပါသောလူ အချို့တို့
နှင့်တကွ၊ ညဉ့်အခါထ၍ ယေရုရှလင် မြို့အဖို့
ပြုခြင်းငှါ၊ ငါ၏ဘုရားသခင်သည်ငါ့အားအထံထိ
ထိုသော အကြံ ပေး တော် မူ သည် ကို၊ အ ခြား
သော သူ တ ယောက် အား မျှ မပြော၊ ကိုယ်စီး
၁၃ သောမြင်းမှတပါး၊ အထထိအရောမျှမပါဘဲ-ညဉ့်
အခါ ချိုင့်တံခါးဖြင့် ထွက်၍၊ နဂါးရေတွင်း တ
စေထိ တံချုတ်၊ နောက်ချေးတံခါးတိုင်အောင်သွား
ခဖြင့်၊ ယေရုရှလင် မြို့ရိုးသည်ပြိုပျက်လျက်၊ မြို့
တံခါးသည်း မီးလောင်၍ မရှိသည်ကို ကြည့်ရှု
၁၄ ပြီးမှ– စမ်းရေတွင်းတံခါးနှင့် ရှင်ဘုရင်ရေကန်
တိုင်အောင် သွန် ပြန် ၍၊ မြင်း ထမ်း မရှိ သော့
၁၅ ကြောင့်– ထ ခန် ထို ညဉ့် ၌ ချောင်း နား တွင်
ရှောက်သွား၍၊ မြို့ရိုးကို ကြည့်ရှုပြီးမှ၊ ချိုင့်တံ
၁၆ ခါးဖြင့် ဝှည့်၍ဝင်ပြန်သော်၏။– အထက်အရပ်
ထို သွားသည်၊ အထက်သို့ ပြုသည်ကို မင်းထို
ထည့် မသိ ကြ။ ထုဓလူ၊ ယဇ်ပုရောဟိတ်၊ မှူး
မတ်၊ မင်းအရာရှိ၊ လုပ်ဆောင်သော လူ တစုံတ
ယောက် အားမျှ ငါသည် ကိုယ် အမှုကို မပြော
သေး။
၁၇ နောက် ထခန်၊ ငါ တို့ ခံရသော ထင်ရှား ခြင်း၊
ယေရုရှလင်မြို့ ပျက်စီးခြင်း၊ မြို့တံခါးသည်း မီး
လောင်၍ ကုန်ခြင်းကို သင်တို့သိမြင်ကြ၏။ လာ
ကြ၊ ကဲ့ရဲ့ ခြင်းနှင့်လွတ်မည်အကြောင်း၊ ယေရု
ရှလင်မြို့ရိုးကို တည်ကြကုန်အံ့ဟုသူတို့အားဆို
၁၈ လျှက်– ငါ၏ဘုရားသခင်သည်ငါ့အားပြုတော်မူ
သောကျေးဇူးကိုင်၎င်း၊ ရှင်ဘုရင်မိန့်တော်မူသော
စကားကို၎င်းကြားပြောသော်၊ သူတို့က၊ငါ
တို့သည်ထ၍ တည်ကြကုန်အံ့ဟု ဆိုလျက်၊ ထို
ကောင်းမှုကို ပြုစေ ခြင်းငှါ၊ ထခေါ်ကို တ
၁၉ ယောက် နှိုးဆော်ကြ၏။–ထိုအခါ ဟောရ
နိုထု သမ္ဘလတ်၊ ကျွန်ခံလု အမ္မုန် အမျိုးသား
တောဘိ၊ အာရပ်အမျိုး သား ဂေရှင် ထို သည်
ကြားလျှင်၊ပြက်ရယ်ပြု၍ သင်တို့သည်အဘယ်
ထိုပြုကြမည်နည်း။ရှင်ဘုရင်ကိုပုန်ကန်ကြမည်
၂၀ သော လု ကဲ့ရဲ့ လျှက် ဆိုကြ၏။– ငါ က လည်း၊
ကောင်း ကင် ဘုံ ၏ အရှင် ဘုရားသခင်သည် ငါ
တို့ကို အခွင့်ပေးတော်မူမည်။ ထိုကြောင့်ဘုရား
သခင်၏ ကျွန်ဖြစ်သော ငါတို့သည်ထ၍ တည်

မည်၊ သင် တို့ မူ ကား၊ ယေရုရှလင် မြို့တွင် ထာ
ရှာမဆိုင် မပိုင်၊ မှတ်စရာ သတ် သေ မရှိဟု ပြန်
ပြော၏။

၃

၁ ထိုအခါ ယဇ်ပုရောဟိတ်မင်းဧလျာရှိပ်သည်၊
မိမိညီအစ်ကို ယဇ်ပုရောဟိတ် တို့နှင့်တကွ ထ
၍၊ သိုးတံခါးကို ပြင်လျက်တံခါးရံ၊ တံခါးထုပ်၊
တံခါးရွက် တို့ကို ထူထောင် ဆွဲထား၍၊ မေအာ
ပြအိုးမှထာနနေလပြအိုးတိုင်အောင်ပြင်ကြ၏။–
၂ သူတို့နောက်မှ၊ ယေရိခေါ မြို့သားတို့သည် ပြင်
ကြ၏။ သူတို့နောက်မှ၊ ဣမရိသား ဇက္ကုရ ပြင်
၃ ၏။– ငါးတံခါးကိုကား၊ ထသေနာအမျိုးသား
တို့ သည် ပြင်လျက် တံခါးရံ၊ တံခါးထုပ်၊ တံခါး
ရွက်တို့ကိုထူထောင်ဆွဲထား၍၊သော့ခလောက်
၄ နှင့်ကန့်လန့်ကျင်တို့ကိုတပ်ကြ၏။–သူတို့နောက်
မှ၊ ကောဇ သား ဖြစ်သော ဥရိယ၏ သား မေရ
မုတ်ပြင်၏။ သူနောက်မှ၊ မေရှေဇဗေလသားဖြစ်
သော မေရှုလံ၏သားမေရှုလံပြင်၏။ သူနောက်မှ၊
၅ ဗာနာ သား ဇာဒုတ် ပြင်၏။– သူနောက်မှ၊ တေ
ကောမြို့သားတို့သည်ပြင်ကြ၏။ သို့ရာတွင်၊တေ
ကောမင်းတို့သည်မိမိတို့အရှင်၏အမှုကိုပိုင်းညီ
၆ ၍မပြုကြ။– တံခါးဟောင်းကိုကား၊ပါသာသား
ယောယဒ၊ မေ သော ဒေ ယ သား မေရှုလံ ပြင်
လျက်တံခါးရံ၊ တံခါးထုပ်၊ တံခါးရွက်တို့ကိုထူ
ထောင်ဆွဲထား၍၊ သော့ခလောက်နှင့်ကန့်လန့်
၇ ကျင်တို့ကိုတပ်ကြ၏။– သူတို့နောက်မှ၊ဂိဗောင်
မြို့သား မေလတိ၊ မေရောနုတ် မြို့သား ယာဒုန်၊
ဂိဗောင်လူ၊ မိဇပါ လူ တို့ သည် မြစ် အ နောက်
ဖက်မြို့ဝန် ရာဇပလ္လင်တိုင်အောင် ပြင်ကြ၏။–
၈ သူတို့နောက်မှထာဟာယသားပန်းထိမ်သမား
ဩဇေလ၊ သူနောက်မှ၊ ဆေးသမားထာနနိပြင်
လျက်၊ ကျယ်သော မြို့ရိုး တိုင်အောင်၊ ယေရုရှ
၉ လင်မြို့ကိုမှိုင်ခံ့စေကြ၏။– သူတို့နောက်မှ၊ယေရု
ရှလင်မြို့တပိုင်းကိုအုပ်သောသူ၊ ဟုရသား ရေ
၁၀ ဖာယပြင်၏။– သူနောက်မှ၊ ဟာရုမပ်သားယေ
ဒါယသည် မိမိအိမ်တဖက်တချက်၌ပြင်၏။ သူ
၁၁ နောက်မှ၊ဟာရှဗနိသားဟတ္တုတ်ပြင်၏။–ကျွန်
ကြွင်းသော အရပ် နှင့် မီးဖိုပြအိုးကိုကား၊ ဟာ
ရိမ်သား မာလခိယနှင့်၊ ပါဟတ် မောအဘ သား
၁၂ ဟာရှုတ် တို့သည် ပြင်ကြ၏။– သူတို့နောက်မှ၊
ယေရုရှလင် မြို့ တပိုင်း ကို အုပ် သော သူ၊ ဟာ
လောဟက်သားရှလ္လုံနှင့်သူ၏သမီးတို့သည်ပြင်

၁၃ ပြင်၏— ရှုံ့ငွတ်ခါးကိုကား၊ ထောနွန်နှင့်ဇာနောအ
မြို့သားတို့သည် ပြုပြင်၍တံခါးဆိုင်၊ တံခါးရွက်၊
သော့ခလောက်၊ ကန့်လန့်ကျင်တို့ကို တပ်ပြီးမှ၊
မြို့ရိုးအတောင် တထောင်ကို နောက်ရှေ့ တံခါး
၁၄ တိုင်အောင်တည်ပြင်၏။— ဗေထက္ကရင်မြို့တပိုင်း
ကိုအုပ်သော ရေခပ်သားမာလခိသည်၊ နောက်
ချေးတံခါးကိုပြုပြင်၍တံခါးရွက်၊သော့ခလောက်၊
၁၅ ကန့်လန့်ကျင်တို့ကို တပ်ထား၏။— မိဇပါမြို့တ
ပိုင်းကို အုပ်သော ကောလဟောဇ သား ရှလ္လုံ
သည်စမ်းရေတွင်းတံခါးကိုပြုပြင်၍တံခါးမိုး၊ တံ
ခါးရွက်၊ သော့ခလောက်၊ ကန့်လန့်ကျင် တို့ကို
တပ်ထား၏ ပြီးလျှင်၊ ရှင် ဘုရင် ဥယျာဉ်နား မှာ၊ ရှိ
လောင်ရေကန်မြို့ရိုးကို၊ ဒါဝိဒ်မြို့ လှေကားတိုင်
၁၆ အောင်တည်၏။—သူ့နောက်မှ၊ဗက်ဇုရမြို့တပိုင်း
ကိုအုပ်သောအာဇဗုတ်သားနေဟမိသည်၊ဒါဝိဒ်
သင်္ချိုင်း တစ်ဘက် တချက် မှ စ၍၊ နောက်ထပ်
သောရေကန်နှင့် မိုလ်မင်းအိမ် တိုင်အောင် ပြုပြင်
၁၇ ၏။— သူ့နောက်မှ၊ လေဝိအမျိုး ဗာနီသားရေဟုံ
ပြုပြင်၏၊ သူ့နောက်မှ၊ကိလမြို့တပိုင်းကိုအုပ်သော
၁၈ ဟာရှဘိသည် မိမိတပ်ကို ပြုပြင်၏။— သူ့နောက်မှ၊
ကိလမြို့တပိုင်းကိုအုပ်သော ဟေနဒဒ်သားဗဝ
၁၉ ဲသည်ပြုပြင်၏။—သူ့နောက်မှ၊မိဇပါမြို့စုပ်၊
ယောရှုသားဧဇာရသည်၊ထက်နက်စုတိုက်သို့
တက်ရာတဘက်တချက်၊ မြို့ထောင့်ထိအောင်ပြုပြင်
၂၀ ၏။— သူ့နောက်မှ၊ ဇဗ္ဗဲသား ဗာရုတ် သည် မြို့
ထောင့်မှ ယဇ်ပုရောဟိတ် မင်း ဧလျာရှိပ်အိမ်
၂၁ တံခါးတိုင်အောင်ကြိုးစား၍ ပြုပြင်၏။— သူ့နောက်
မှ၊ ကောဇ သား ဖြစ်သော ဥရိယ၏ သား မေရ
မုတ်သည်၊ ဧလျာရှိပ်အိမ်တံခါးမှ အိမ်ထောင့်
၂၂ တိုင်အောင်ပြုပြင်၏။—သူ့နောက်မှ၊မြို့ပြင်အရပ်သား
၂၃ ယဇ်ပုရောဟိတ် တို့သည် ပြုပြင် ကြ၏။— သူ တို့
နောက်မှ၊ ဗင်္ယာမိန်နှင့်ဟာရှုပ်သည်မိမိအိမ်တ
စ်ဘက်တချက်၌ပြုပြင်ကြ၏၊ သူတို့နောက်မှ၊အာနနိ
သားဖြစ်သော မာသေယ၏သား အာဇရိသည်
၂၄ မိမိအိမ် တဘက် တချက်၌ ပြုပြင်၏။— သူ့နောက်မှ၊
ဟေနဒဒ် သားဗိန္နုသည်၊ အာဇရိ အိမ်မှ မြို့ရိုး
၂၅ ကွေ့ရာ မြို့ထောင့်တိုင်အောင် ပြုပြင်၏။— ဥဇဲသား
ပါလလသည်မြို့ရိုးကွေ့ရာတဘက်တချက်ကိုင်၍၊
ထောင်ဝင်းနား၊ မြင့်သော နန်းတော်မှာရှိသော ပြ
အိုးကိုင်ပြုပြင်၏။ သူ့နောက်မှ၊ ပါရုပ်သားပေဒါ
၂၆ ယပြုပြင်၏။—ထိုမှတပါး၊ဘုရားကျွန်တို့သည်ဩဖေလ
ရပ်တွင်နေ၍ရေတံခါး၊တဘက်တချက်၌မိမိတို့နေရာ
ကြမ်းလေ ၏ ထိုက်တိုက်၊ မြင့်ထွက်သော ပြ
၂၇ အိုးကိုင်ပြုပြင်ကြ၏။— သူတို့နောက်မှ၊တေကောအ
မြို့သားတို့သည် မြင့်ထွက်သောပြအိုးကြီးမှ
ဩဖေလမြို့ရိုး တိုင်အောင် ပြုပြင်ကြ၏။
၂၈ ပြုပြင်ကြ၏။—မြင်းတံခါးအထက်၊ယဇ်ပုရောဟိတ်
တို့သည်၊ မိမိတို့နေရာအိမ် တဘက်တချက်၌အ
၂၉ သီးသီး ပြုပြင်ကြ၏။— သူတို့ နောက်မှ၊ ဣမေရ
သားဇာဒုတ်သည် မိမိအိမ်တဘက်တချက်၌ပြုပြင်
၏၊ သူ့နောက်မှ၊ ရှေကနိသား၊ အရှေ့ တံခါးစောင့်
၃၀ ရှေမာယပြုပြင်၏။— သူ့နောက်မှ၊ရှေလမိသားဟာ
နနိ၊ ဇာလပ်၏ ဆဋ္ဌမသား၊ ဟာနုန်တို့သည်ပြုပြင်
ကြ၏၊သူတို့နောက်မှ၊ဗေရခိသားမေရှုလံသည်
၃၁ မိမိအိမ်ရာ ခန်း တဘက် တချက် ၌ ပြုပြင်၏။— သူ့
နောက်မှ၊ ပန်းတိမ်သမားသားမာလခိသည်မိဖ
ကဒ်တံခါး၊ တဘက် တချက်၌၊ ဘုရားကျွန် နေရာ
နှင့် ကုန်သည် နေရာ အရပ် တိုင်အောင်၎င်း၊ မြို့
၃၂ ထောင့်တက်ရာအရပ်တိုင်အောင်၎င်းပြုပြင်၏။— မြို့
ထောင့် တက် ရာ အရပ် မှ စ၍၊ သိုး တံခါးတိုင်
အောင်ပန်းတိမ်သမားများ နှင့်ကုန်သည်များတို့
သည်ပြုပြင်ကြ၏။

၄

၁ ထိုသို့ ငါတို့သည် မြို့ရိုး တည် ဆောက်ခြင်း ကို၊
သမ္ဘာလတ်သည် သိတင်းကြားသောအခါ၊ အ
လွန် ဒေါသအမျက်ထွက်၍၊ ယုဒလူတို့ကိုပြက်
၂ ရယ်ပြုလျက်– အားမရှိသောယုဒလူတို့သည်
အဘယ်သို့ ပြုကြမည်နည်း။ ကိုယ်ကို ခိုင်ခံ့စေ
မည်လော၊ ယဇ်ပူဇော်မည်လော၊ တနေ့ချင်း
တွင်ထ တ်စသတ်မည်လော၊ ထွေမ်းလောင်သော
ကျောက်တို့ကို အမှိုက်ပုံများ ထဲက ထုတ်၍ ပြု
ပြင် မည် လောဟု၊ မိမိ အမျိုးသားချင်း၊ ရှမာရိ
၃ တပ်သား ရှေ့မှာ ပြော ဆို ၏။— ထု အနားမှာ ရှိ
သော အမ္မုန်အမျိုးသား တောဘိက ထ ကြွေး၊ သူ
တို့တည်သော ကျောက်မြို့ကို တောခွေး ဆိုမိုလ်
၄ လျှင်၊ပြိုလဲလိမ့်မည်ဟုပြန်ပြော၏။— အိုအကျွန်ုပ်
တို့ဘုရားသခင်၊နားထောင်တော်မူပါ။အကျွန်ုပ်
တို့သည် မထီမဲ့မြင်ပြုခြင်းကိုခံရပါ၏။ သူတို့ကဲ့
ရဲ့သော စကားသည်၊ သူတို့ ခေါင်း ပေါ်သို့ ပြန်
ရောက် ပါ စေ သော၊ သိမ်း သွား ခြင်း ကို ခံရာ
၅ ပြည်၌ လုယက်ခြင်းကို ခံရကြပါစေသော။— ဒု
တိုယပြုသော ဒုစရိုက်ကို ဖုံးအုပ်တော်မမူပါနှင့်။
ရှေ့တော်၌ သူတို့အပြစ်မပြေပါစေနှင့်၊ မြို့ကို
တည်သောသူတို့၏ မိတ်ကို နာစေခြင်းငှါ ပြော

၆ တတ်ကြပါသည် တကား။– ထိုရာတွင်၊ ငါတို့
သည် မြို့ရိုးကို တည်ကြ၏။ တည်လုပ်သော သူ
တို့သည်စေတနာကြီးသောကြောင့်၊မြို့ပတ်လည်
မြို့ရိုးအမြင့်တဝက်တိုင်အောင်ပြီးလေ၏။
၇ ယေရုရှလင်မြို့ရိုးမြင့်၍ ပြိုပျက်ရာတို့ကိုပျင်စ
ပြုကြသည်ဟု၊ သမ္ဘာလတ်နှင့်တောဘိ၊ အာရပ်
သောအာရပ်လူ၊အမ္မုန်လူ၊အာဇုတ်လူတို့သည်
ကြားသောအခါ၊ အလွန်ဒေါသ မိတ်ရှိသည်ဖြစ်၍၊–
၈ ယေရုရှလင်မြို့ကိုစစ်ချီ၍တိုက်မည်။ ထိုအမှုကို
ဖျက်မည်ဟုတညီတညွတ်တည်းတိုင်ပင်ကြ၏။–
၉ ထိုရာတွင်၊ငါတို့သည် ငါတို့၏ဘုရားသခင်ကိုဆု
တောင်း၍၊ ရန်သူကြောင့်နေ့ညဉ့်မပြတ် ကင်း
၁၀ စောင့်ထားကြ၏။– ယုဒလူအချို့ကလည်း၊ဝန်
ထမ်းသောသူတို့သည် အားကုန်ကြပြီ။ အမှိုက်
များလှ၏။ မြို့ရိုးပြီးစီးအောင် မတတ်နိုင် ကြဟု
၁၁ ဆိုကြ၏။–ရန်သူတို့ကလည်း၊သူတို့သည်အမှတ်
တမဲ့၊သတိမရှိဘဲနေစဉ်တွင်၊ ငါတို့သည်သူတို့
အထဲသို့ဝင်၍လုပ်ကြံသဖြင့်၊ထိုအလုပ်ကိုဖျက်
၁၂ မည်ဟုဆိုကြ၏။– သူတို့အနားမှာနေသော ယုဒ
လူတို့သည်လည်း၊ လာ၍ရန်သူတို့သည် နေရာ
အရပ်ရပ် တို့က၊ သင်တို့ကို တိုက် လာ ကြလိမ့်
၁၃ မည်ဟု၊ ငါတို့အား အထပ်ထပ် ဆိုကြ၏။– ထို
ကြောင့်မြို့ရိုးနောက်၊ နိမ့်သောအရပ်၊ရှင်းလင်း
သော အရပ်တို့၌ ထား၊ လှံ၊ လေး လက်နက် ပါ
သော လူများကို၊ အဆွေ အမျိုး အလိုက် ငါခန့်
၁၄ ထား၏။– ထိုအမှု အလုံးစုံတို့ ကို ကြည့်ရှု စီရင်
ပြီးမှ မှူးမတ်၊မင်းအရာရှိ၊ကြွင်းသောသူတို့အား
ခေါ်၍၊ရန်သူတို့ကိုမကြောက်ကြနှင့်။ကြီးမြတ်
၍ ကြောက်မက်ဖွယ် ဖြစ်တော်မူသော ထာဝရ
ဘုရားကိုအောက်မေ့ကြလော့။ ညီအစ်ကိုသားမ
၁၅ ယားအိမ်ရာအဖို့တိုက်ကြလော့ဟုဆို၏။ ထိုသို့
ငါတို့သည် သတိရ၍၊ ရန်သူ အကြံ ကို ဘုရား
သခင်ဖျက်ဆီးတော်မူကြောင်းကို၊ သူတို့ကြား
သိသောအခါ၊ ငါတို့ရှိသမျှသည် အသီးအသီး
၁၆ လုပ်ရာအရပ်၊မြို့ရိုးသို့ပြန်လုပ်ကြ၏။–နောက်မှ
ငါ့ကျွန်တဝက်သည် အလုပ်လုပ် ကြ၏။ တဝက်
သည်လှံ၊ဒိုင်း၊လေး၊သံချပ်တို့ကိုကိုင်ကြ၏။မင်း
တို့သည် ယုဒအမျိုးသားများ နောက်မှာ နေကြ
၁၇ ၏၊–မြို့ရိုးတည်သောသူ၊ ဝန်ထမ်းသောသူ၊ဝန်
ကိုတင်သောသူအပေါင်းတို့သည် လက်တဖက်
နှင့်လုပ်ကြ၏။သတ်တဖက် နှင့်လက်နက်ကိုကိုင်
၁၈ ကြ၏။– တည် လုပ်သော သူ အပေါင်းတို့ သည်

ခါး၌ ထားဆွဲလျက်တည်လုပ်ကြ၏။ တံပိုးမှုတ်
၁၉ သောသူသည်ငါ့အနားမှာရပ်နေ၏။–ငါကလည်း၊
အလုပ် သည် ကြီး ကျယ်လှ၏။ မြို့ရိုးပေါ်မှာတ
ယောက် တခြားစီသူနှင့် ငါ ဝေးဝေးလုပ်ရ၏။–
၂၀ သို့ဖြစ်၍၊တံပိုး မှုတ်သံကိုကြားလေရာရာအရပ်
မှ၊ငါတို့ထံသို့စည်းဝေးကြ။ငါတို့၏ဘုရားသခင်
သည် ငါတို့ဘက်၌စစ်ကူတော်မူမည်ဟု မှူးမတ်၊
၂၁ မင်းအရာရှိ၊ကြွင်းသောသူတို့အားငါဆို၏။–ထို
သို့ငါတို့သည် အလုပ်လုပ်ကြ၏။ လူတဝက်သည်
မိုဃ်း လင်း သည် မှစ၍ ကြယ် ပေါ်သည် တိုင်
၂၂ အောင်၊ လှံလက်နက်တို့ကိုကိုင်ကြ၏။– ထိုအခါ
၌လည်း၊ ငါကလူတိုင်းမိမိကျွန်နှင့်တကွ ညဉ့်
အချိန်တွင်၊ ယေရုရှလင်မြို့ထဲမှာ အိပ်စေ။ သို့ပြု
လျှင်၊ကျွန်တို့သည်နေ့အခါ အလုပ်လုပ်လျက်၊
ညဉ့်အခါအလှည့်လှည့်စောင့်လျက်ရှိကြလိမ့်
၂၃ မည်ဟု၊ လူများတို့အား ဆို၏။– ထိုသို့ ငါနှင့်င
ညီ၊ငကျွန်၊ ငနောက်၌ လိုက်သော တပ်သား တို့
သည်၊ကိုယ်အဝတ်ကိုမချွတ်ဘဲနေရကြ၏။

၅

၁ ထိုအခါယောက်ျား မိန်းမများတို့သည်၊ အမျိုး
သားချင်းယုဒလူတို့ကိုအလွန်အပြစ်တင်၍ မြည်
၂ တမ်းကြ၏။–အချို့ကလည်း၊ ငါတို့နှင့်သားသမီး
များ စုံရှိကြ ၏။ သူတို့ အသက် ရှင်း ထောက်
အောင် စားစရာဆန်စပါးကို အဘယ်မှာ ရနိုင်
၃ မည်နည်းဟု ဆိုကြ၏။– အချို့ကလည်း၊ ငါတို့
သည်လယ်ယာ၊ဥယျာဉ်၊ အိမ်တို့ကိုပေါင်ထား
ပြီ။ အစာခေါင်းပါးသော ကာလ၊ ဆန်စပါးကို
၄ အဘယ်မှာရနိုင်ပါမည်နည်းဟုဆိုကြ၏။– အချို့
ကလည်း၊ ငါတို့သည်အခွန်တော်ကိုပေးစရာရှိ
စေခြင်းငှါလယ်ယာ၊ဥယျာဉ်အတွက်ငွေကိုချေး
၅ ယူပြီ။–ယခုမှာငါတို့ကိုယ်ခန္ဓာသည်အမျိုးသား
ချင်းတို့၏ကိုယ်ခန္ဓာကဲ့သို့ဖြစ်၏။ ငါတို့သားသမီး
သည်သူတို့သားသမီးကဲ့သို့ဖြစ်ကြ၏။ ငါတို့သား
သမီးကိုရောင်း၍ ကျွန်ခံစေရမည်လော။ကျွန်ခံပြီး
သောသမီး တို့ကိုလည်း ရွေးခြင်းငှါ မတတ် နိုင်။
ပိုင်ရှင်း လယ်ယာနှင့် ဥယျာဉ်တို့သည် သူတပါး
၆ လက်သို့ ရောက်လေပြီတကားဟု ဆိုကြ၏။– ထို
သို့အပြစ်တင်မြည်တမ်းသောစကားကိုငါသည်
ကြားသောအခါ၊ အလွန်ပြင်းငယ်သော စိတ်ရှိ
၇ ၍၊ကိုယ်စိတ်ကိုလျောက်ဆင်ခြင်ပြီးမှ–မှူးမတ်
နှင့်မင်းအရာရှိတို့ကိုခေါ်၍၊သင်တို့သည်အမျိုး
သားချင်းတို့၌အတိုးစားစားတတ်ကြသည်တကား။

ထုရုံရှုသဖြင့်၊ သူတို့တဖက်၌လူအများတို့ကိုစု
၈ ဝေးစေလျက်-တပါးအမျိုးသားတို့ထက်၌ကျွန်
ခံသောငါတို့ညီအစ်ကိုယုဒလူတို့ကို၊ ငါတို့သဉ်
တတ် နိုင် သမျှ အတိုင်း ရွေး နှုတ်ပြီးမှ၊ သင်တို့
သည်ညီအစ်ကိုတို့ကိုတဖန်ရောင်းဦးမည်လော။
သူတို့သည်အမျိုးသားချင်းတို့တွင်၊ အရောင်းခံ
ရမည် လောဟု ဆိုလျှင်၊ သူတို့သည်ပြန်ပြော
၉ စရာမရှိ။တိတ်ဆိတ်စွာနေကြ၏။- ငါကလည်း၊
သင်တို့ပြုသောအမှုမကောင်း ပါတကား။ငါတို့
ရန်သူဖြစ်သောတပါးအမျိုးသားတို့သည်ငါတို့
ကိုကဲ့ရဲ့မည်ဟုစိုးရိမ်၍၊ငါတို့၏ဘုရားသခင်ကို
ကြောက်ရွံ့သောစိတ်နှင့်၊သင်တို့ကျင့်သင့်သည်
၁၀ မဟုတ်လော။-ငါနှင့်ညီ၊ကျွန်တို့သည်လည်း၊
လူများတို့၌ငွေနှင့် ဆန်စပါးကို ချွဲယူပိုင်သည်မ
ဟုတ်လော။ အတိုးစားသောအမှုကို ပယ်ဖြတ်
၁၁ ကြပါလော့။- ယနေ့ပင်သူတို့ထယ်ယာ၊ စပျစ်ဥ
ယျာဉ်၊သံလွင်ဥယျာဉ်၊ အိမ်ရာကိုဎင်၊ သူတို့၌ချွဲ
ယူပြီးသောငွေ၊ ဆန်စပါး၊ စပျစ်ရည်၊ ဆီအသျှို
၁၂ ကိုဎင်ပြန်ပေးကြပါလော့ဟုဆိုသော်-သူတို့က
ပြန်ပေးပါမည်။ ထာမျှမတောင်းမယူပါ။ ကိုယ်
တော်မိန့်တော်မူသည်အတိုင်း ပြုပါမည်ဟုဝန်
ခံကြ၏။ ထိုသို့ ယဇ်ပုရောဟိတ် တို့သည် ဂတိ
ထားသည်အတိုင်းပြုရမည်အကြောင်း၊ ငါသည်
၁၃ သူတို့ကိုခေါ်၍၊ကျိန်ဆိုစေပြီးမှ-ကိုယ်ခါးပိုက်
ကိုခါလျက်၊ ဂတိပျက်သော သူ အပေါင်း တို့ကို
ဘုရားသခင်သည် အိမ်တော်၊ အမှုတော် ထဲက
ဤသို့ခါလိုက်တော်မူပါစေသော။ သူတို့သည် ဤ
သို့ခါပြစ်လိုက်ခြင်းကို ခံရကြပါစေသောဟုဆို
၍၊စည်းဝေးသောသူအပေါင်းတို့သည် အာမင်
ဟုဝန်ခံ၍၊ ထာဝရဘုရားကို ချီးမွမ်း ကြ၏။ လူ
များတို့သည်လည်း၊ ဂတိထားသည် အတိုင်းပြု
ကြ၏။
၁၄ ထိုမှတပါး၊ ယုဒမြို့ဝန်အရာကို ငါခံသောအ
ချိန်၊ အာတဇေရဇ်မင်းကြီး နန်းစံနှစ်ဆယ်မှစ
၍ သုံးဆယ် နှစ်နှစ် တိုင်အောင်၊ တဆယ်နှစ်နှစ်
ပတ်လုံး ငါနှင့် ညီ တို့သည် မြို့ဝန် ရိက္ခာကိုမ
၁၅ စား။- အရင်မြို့ဝန်တို့ကိုလူများတို့သည်ကျွေးရ
ကြ၏။ မုန့်နှင့် စပျစ် ရည်ကိုဎင်၊ တနေ့လျှင် ငွေ
လေးဆယ်ကိုဎင် ပေးရကြ၏။ မင်းလုလင်၏စေ
စားခြင်းကို လည်း ခံရကြ၏။ ငါမူကား၊ ဘုရား
သခင်ကိုကြောက်ရွံ့သောကြောင့်၊ အရင်မြို့ဝန်
၁၆ ကဲ့သို့မပြု။- ထိုမှတပါး၊ ငါသည် မြို့ရိုးကို အမြဲ
လုပ်၍နေ၏။ငါနှင့်ကျွန်တို့သည်ထယ်ယာကို
မဝယ်၊ မြို့ရိုးတည်ခြင်းအမှုကိုသာပိုင်းညီ၍ကြိုး
၁၇ စားကြ၏။- ထိုမှတပါး၊ပတ်ဝန်းကျင်၌ နေ၍ငါ
တို့ထံသို့လာသောတပါးအမျိုးသားကိုမဆိုထဲ၊
ယုဒအမျိုးသားတို့နှင့်မင်းအရာရှိတရာငါးကျိပ်
၁၈ တို့သည်ငစားပွဲ၌ စားသောက်မြဲ ရှိကြ၏။- နေ့
တိုင်း ငစား ပွဲကို နွား တကောင်၊ ရွေးသော သိုး
ခြောက် ကောင်၊ ကြက် များ ကို စီရင်ရ၏။ ဆယ်
ရက်တခါများစွာသော စပျစ်ရည် အမျိုးမျိုးကို
လည်းတင်ရ၏။ ထိုမျှလောက်ကုန်သော်လည်း၊
လူများ တို့သည် ပင် ပန်းစွာ အမှု ဆောင် ရသော
၁၉ ကြောင့်၊ မြို့ဝန်၌ ရိက္ခာကိုငါမတောင်း။- အိုအ
ကျွန်ုပ်ဘုရားသခင်၊ ဤလူတို့အဖို့အကျွန်ုပ်ပြုသ
မျှအတွက်၊ အကျွန်ုပ်ကိုအောင်းမေ့၍ ကျေးဇူး
ပြုတော်မူပါ။

၆

၁ ထိုအခါမြို့တံခါးတို့ကိုမထူထောင်သေးသော်
လည်း၊ မြို့ရိုးတည်၍ လုံကြောင်းကိုသမ္ဘာလတ်၊
တောဘိ၊ အာရပ်လူဂေရှင်မှစ၍၊ကြွင်းသောရန်
၂ သူတို့သဉ်သိတင်းကြားသောအခါ-သမ္ဘာလတ်
နှင့် ဂေရှင်တို့က လာပါ။ ဩနော ချိုင့်တွင် ခေဖိ
ရိမ် ရွာမှာ တွေ့ကြ ကုန်အံ့ဟု၊ မကောင်း သော
၃ အကြံရှိ၍ ငါ့ကို မှာလိုက်ကြ၏။- ငါကလည်း၊
ငါ သည် ကြီးသောအမှုကို ဆောင်ရွက် ရသော
ကြောင့်၊ မဆင်းမလာနိုင်။ ထိုအမှုကို မဆောင်
ရွက်ဘဲ သင်တို့ ရှိရာသို့ ဆင်းသွား၍၊ အဘယ်
ကြောင့် အမှုပြတ် ရမည် နည်းဟု၊ တမန်တို့ကို
၄ စေလွှတ်၍ ပြန်ပြော၏။- ထို သို့ လေး ကြိမ် တိုင်
အောင်မှာလိုက်၍၊ ငါသည်လည်း၊ ထခင်ကဲ့သို့
၅ ပြန်ပြော၏။-နောက်ပဉ္စမအကြိမ်၌သမ္ဘာလတ်
သည်ယခင်ကဲ့သို့ မိမိကျွန်ကိုစေလွှတ်၍၊ ကျွန်
၆ တွင်တံဆိပ်မခတ်သော စာပါ၏။- စာချက်ဟူမူ
ကား၊သင်နှင့်ယုဒလူတို့သဉ်ပုန်ကန်မည်အကြံ
ရှိသည်ဟု၊ လူအမျိုးမျိုး ပြော ဆိုကြ ၏။ ဂေရှင်
လည်း သက် သေခံ ၏။ ထိုစကား နှင့် အညီ သင်
သည် ယုဒ ရှင်ဘုရင် ဖြစ် လိုသော ငှါ၊ မြို့ရိုး ကို
၇ တည်၏။- ယုဒပြည်၌ ရှင်ဘုရင်ရှိသည်ဟု၊ သင့်
ကိုရည်စောင်၍၊ ယေရုရှလင် မြို့၌ ဟော ပြောရ
သောပရောဖက်တို့ကိုသင်ခန့်ထားပြီ။ ထိုစကား
အတိုင်း၊ ရှင်ဘုရင်အားကြားလျှောက် ရမည်။
သို့ဖြစ်၍လာပါ။ထိုင်ပင်ကြကုန်အံ့ဟုစာ၌ပါသ
၈ တည်း။- ငါကလည်း၊ သင်ပြောသော စကားအ

ငွန်းမျှ မမှန်း၊ ကိုယ်စိတ်ထဲမှာ အကျည်းနှီး ထင်
၉ တတ်သည်ချည်းဟု၊ စေလွှတ်၍ပြန်ပြော၏။—အ
ကြောင်းမူကား၊ သူတို့က၊ ထိုအလုပ်ကိုထက်စမ
သတ်နိုင်စေခြင်း၊ လူတို့သည် အားလျော့ကြလိမ့်
မည်ဟု ဆိုလျက်၊ ငါတို့ကို ခြိမ်းခြောက် ကြ၏။
ထို ရာ တွင်၊ ထိုစကား ကြောင့် ငါသာ ၍ အားရှိ
၁၀ ၏။— ထိုအခါ မဟေတဗေလ သား ဖြစ်သောဒေ
လာယ၏သား ရှေမာယသည်၊ ဝှန်းရှောင်လျက်
နေသောအိမ်သို့ငါသွားလျှင်၊ သူကဘုရားသခင်
၏ အိမ် တော် အတွင်း ခန်း ထဲမှာ ငါတို့သည် စု
ဝေး၍၊ ဗိမာန်တော်တံခါးတို့ကို ပိတ်ထားကြ
ကုန်စို့။ ကိုယ်တော်ကိုသတ်ဖို့သောငှါလာကြ
လိမ့်မည်။ ညနေ့ညဉ့်၌ပင်လာကြလိမ့်မည်ဟု
၁၁ ဆို၏။-ငါကထည့်း၊ ငါကဲ့သို့သောသူသည်ပြေးရ
မည်လော။ ငါနှင့်တူသောသူသည်အသက်ချမ်း
သာခြင်းငှါ၊ ဗိမာန်တော်ထဲသို့ဝင်ရမည်လော။
၁၂ ငါ မဝင်ဟုပြန်ပြော၏။— ထိုသူကို ဘုရားသခင်
စေလွှတ်တော်မမူ။ တောဘိနှင့် သမ္ဘာလတ်ငှါး
သော ကြောင့်၊ ထို သို့ ငါ့အာ ဖက် ၌ သော ပြော
၁၃ သည်ကို ငါရိပ်မိ၏။— သူတို့သည်ငါ့ကိုကဲ့ရဲ့စရာ
အကြောင်းရှိစေလျက်၊ ငါကြောက်၍ထိုသို့ပြုသ
၁၄ ဖြင့်၊ ပြစ်မှားစေခြင်းငှါ ထိုသူကိုငှါးကြ၏။— အို
အကျွန်ုပ်ဘုရားသခင်၊ ထိုသို့ပြုတတ်သောတော
ဘိနှင့် သမ္ဘာလတ်ကိုငှင်၊ နောဒိအမည်ရှိသော
ပရောဖက်မ မှ စ ၍၊ အကျွန်ုပ် ကို ခြိမ်း ခြောက်
သောပရောဖက်တို့ကိုငှင်မှတ်တော်မူပါ။
၁၅ အရက်ငါးဆယ်နှစ်ရက်ကြာမှဧလုလလ၊ နှစ်
ဆယ် ငါးရက်နေ့တွင်၊ မြို့ရိုးကိုထက်စသတ်ကြ
၁၆ ၏။— ထိုသိတင်းကိုရန်သူတို့သည်ကြား၍၊ ပတ်
ထည် ဝန်းကျင်၌ နေသော တပါး အမျိုးသားအ
ပေါင်း တို့သည်၊ မြို့ရိုး ကို မြင်သော အခါ၊ ရှက်
ကြောက် ခြင်း သို့ ရောက် ကြ ၏။ အ ကြောင်း မူ
ကား၊ ထိုအမှုသည် ငါတို့၏ ဘုရားသခင် အ ခွင့်
နှင့်ပြီးကြောင်းကိုရိပ်မိကြ၏။
၁၇ ထိုကာလတွင်၊ ယုဒမှူးမတ် တို့သည် များစွာ
သော မေတ္တာစာကို တောဘိထံသို့ ပေးလိုက်၍၊
တောဘိပြန်ပေးသောစာအများကိုလည်းရကြ
၁၈ ၏။—တောဘိသည်အာရာသားရှေကနိ၏သမက်
ဖြစ် သော ကြောင့် ၎င်း၊ သူ၏ သား ယော ဟနန်
သည် ဗေရခိသား မေရှုလံ ၏သမီးနှင့် စုံဖက်သော
ကြောင့်၎င်း၊ ယုဒလူအများတို့သည်တောဘိထံ၌
၁၉ သစ္စာကိုခံကြပြီး-သူတို့သည်တောဘိပြုသောအ
မှုကောင်းတို့ကို ငါ့အား ပြန်ပြောကြ၏။ ငါ့စကား
ကိုလည်း၊ သူ့အား ပြန်ပြောကြ၏။ သူသည်လည်း၊
ငါကြောက်စေခြင်းငှါ စာပေးလိုက်လေ၏။

၇

၁ မြို့ရိုးကို ထက်စသတ်သောအခါ၊ ငါသည်တံ
ခါး တို့ ကို ထူ ထောင်၍ တံခါး စောင့်၊ သီခြင်း
၂ သည်၊ လေဝိသားတို့ကိုခန့်ထားပြီးမှ— သစ္စာရှိ
၍ ဘုရား သခင်ကို အထူး သဖြင့် ရိုသေသော ရဲ
တိုက် မှူး ဟာနနိ နှင့် ဟေနနိတို့၌၊ ယေရုရှ
၃ လင်မြို့ကိုအပ်လျက်— နေမထွက်မှီ ယေရုရှလင်
မြို့တံခါးတို့ကိုမဖွင့်စေနှင့်။ တံခါးစောင့်ရှိစည်၊
တံခါးတို့ကိုပိတ်၍ကန့်လန့်ကျင်ထိုးစေ။ မြို့သူမြို့
သားတို့သည် အသီး အသီးမိမိကျိုအရပ် မိမိတို့
အိမ်တဖက်တချက်၌ကင်းစောင့်စေဟုမိရင်၏။—
၄ အကြောင်း မူကား၊ မြို့ သည် ကျယ် ဝန်း သော်
လည်း၊ နေသော သူ နည်း၍ အိမ် များ တို့ကို မ
တည်မဆောက်ကြသေး။
၅ ထိုအခါမှူးမတ်၊ မင်းအရာရှိ၊ ဆင်းရဲသားတို့
ကို အဆွေ အမျိုး အလိုက် စာ ရင်း ယူခြင်း ငှါ စု
ဝေး စေမည် အကြံ ကို၊ ငါ၏ ဘုရားသခင် သည်
၆ ငါ့စိတ် နှလုံးထဲသို့ သွင်းပေးတော်မူ၏။— တဖန်
၇ ငါတွေ့သော စာရင်းတည်း ဟူသော၊ ရှေးဦးစွာ
ရောက်လာသော သူတို့၏ အဆွေအမျိုး စာရင်း
ချက် ဟူမူ ကား၊ ဗာဗုလုန် ရှင်ဘုရင် နေဗုခဒ်နေ
ဇာသည်ဗာဗုလုန် မြို့သို့သိမ်းသွားခြင်းကို ခံရ
သောသူစုထဲကထွက်၍ ဇေရုဗဗေလ၊ ယောရှု၊
နေဟမိ၊ အာဇရိ၊ ရာမိ၊ နာဟမာနိ၊ မော်ဒကဲ၊ ဗိ
လရှန်၊ မိဇပေရက်၊ ဗိဂဝဲ၊ နေဟုံ၊ ဗာနာတို့နှင့်အ
တူလိုက်လာ၍ ယေရုရှလင်မြို့အစရှိသော၊ ယုဒ
ပြည်၌ အသီးအသီး ဆိုင်သော မြို့ရွာသို့ရောက်
သောနိုင်ငံတော်သား၊ ဣသရေလလူစာရင်းဟူ
၈ မူကား၊— ပါရုတ်အမျိုးသား နှစ်ထောင် တရာခု
၉ နှစ်ဆယ် နှစ်ယောက်၊— ရှေဖတိ အမျိုးသား သုံး
၁၀ ရာခုနှစ်ဆယ် နှစ် ယောက်၊— အာရာ အမျိုးသား
၁၁ ခြောက်ရာ ငါး ဆယ် နှစ် ယောက်၊— ပါဟတ်
မောအာ အမျိုး၊ ယောရှုနှင့် ယွာဘ အမျိုး သား
၁၂ နှစ်ထောင် ရှစ်ရာ တဆယ်ရှစ်ယောက်၊— ဧလံ
အမျိုး သား တ ထောင် နှစ်ရာ ငါး ဆယ် လေး
၁၃ ယောက်၊— ဇတ္တု အမျိုးသားရှစ်ရာ လေးဆယ်
၁၄ ငါးယောက်၊— ဇက္ကဲအမျိုးသားခုနှစ်ရာ ခြောက်
၁၅ ဆယ်၊— ဗိန္နွိအမျိုး သား ခြောက်ရာ လေး ဆယ်
၁၆ ရှစ်ယောက်၊— ဗေဗဲအမျိုးသား ခြောက်ရာ နှစ်

၁၇ ဆယ် သုံးယောက်၊- အာဂေဒ် အမျိုး သား တ
၁၈ ထောင်သုံးရာနှစ်ဆယ်နှစ်ယောက်၊-အဓော်နိုက်
အမျိုး သား ခြောက် ရာ ခြောက် ဆယ် ရှ နှစ်
၁၉ ယောက်၊-မိဂဝဲအမျိုးသား နှစ်ထောင်ငါးဆယ်
၂၀ ရှနှစ်ယောက်၊- အာပိန် အမျိုးသား ခြောက်ရာ
၂၁ ငါးဆယ် ငါး ယောက်၊- ထေဇကိနှင့် အာတာ
၂၂ အမျိုးသားကိုးဆယ်ရှစ်ယောက်၊-ယာရှံအမျိုး
၂၃ သားသုံးရာနှစ်ဆယ်ရှစ်ယောက်၊-ဗေဇဲအမျိုး
၂၄ သားသုံးရာနှစ်ဆယ်လေးယောက်၊-ဟာရိပ်အ
၂၅ မျိုးသားတရာတဆယ်နှစ်ယောက်၊-ဂိဗောင်အ
၂၆ မျိုးသားကိုးဆယ်ငါးယောက်၊-ဗက်လင်မြို့၊နေ
၂၇ တောဖမြို့သားတရာရှစ်ဆယ်ရှစ်ယောက်၊-အာ
၂၈ နသုတ်မြို့သားတရာနှစ်ဆယ်ရှစ်ယောက်၊- ဗေ
ထာဇမာဝတ်မြို့သားလေးဆယ် နှစ်ယောက်၊-
၂၉ ကိရယတ်ယာရိမ်မြို့၊ခေဖိရမြို့၊ ဗေရုတ်မြို့သား
၃၀ ခုနစ်ရာလေးဆယ်သုံးယောက်၊- ရာမမြို့၊ ဂါဗ
၃၁ မြို့သား ခြောက်ရာ နှစ်ဆယ်တယောက်၊- မိတ်
၃၂ မတ်မြို့သား တရာ နှစ်ဆယ် နှစ်ယောက်၊- ဗေ
ထထမြို့၊ အာဣမြို့သား တရာ နှစ် ဆယ် သုံး
၃၃ ယောက်၊-အခြားသောနေဗောမြို့သားငါးဆယ်
၃၄ နှစ်ယောက်၊-အခြားသောဧလံမြို့သားတထောင်
၃၅ နှစ်ရာငါးဆယ်လေးယောက်၊- ဟာရိမ်မြို့သား
၃၆ သုံးရာနှစ်ဆယ်၊- လောဒ်ဟာဒိဒ်၊ ဩနောမြို့သား
၃၇ ဆယ် ငါးယောက်၊- ယေရိခေါမြို့သားသုံးရာလေး
၃၈ ဆယ် ငါးယောက်၊- ဆေနာမြို့သားသုံးထောင်ကိုးရာသုံးဆယ်တည်း။
၃၉ ယဇ်ပရောဟိတ် ခေါင်း ဟူမူကား၊ ယောရှု
အမျိုးထဲက ယေဒါယ အမျိုး သားကိုးရာ ခုနစ်
၄၀ ဆယ် သုံး ယောက်၊- ဣမေရ အမျိုး သား တ
၄၁ ထောင် ငါးဆယ် နှစ် ယောက်၊- ပါရှုရ အမျိုး
သားတထောင်နှစ်ရာလေးဆယ်ခုနှစ်ယောက်၊-
၄၂ ဟာရိမ် အမျိုးသား တထောင် တဆယ် ခုနှစ်
ယောက်တည်း။
၄၃ လေဝိသား ခေါင်း ဟူမူကား၊ ဟောဒေဝ အ
မျိုးထဲက ယောရှု အမျိုး နှင့် ကာဒမေလအမျိုး
၄၄ သား ခုနှစ်ဆယ် လေး ယောက်၊- သီခြင်းသည်၊
အာသပ် အ မျိုး သား တ ရာ လေး ဆယ် ရှစ်
၄၅ ယောက်၊- တံခါးစောင့် ရှလ္လုံအမျိုးသား၊ အာ
တာ အ မျိုး သား၊ တာ လ မုန် အ မျိုး သား၊
အက္ကုပ်အမျိုးသား၊ ဟတိတ အမျိုးသား၊ ရှော
ဗဲအမျိုးသားပေါင်းတရာသုံးဆယ် ရှစ်ယောက်
တည်း။

၄၆ သုရားကျွန်ခံသူ၊ ဇိဟ အမျိုးသား၊ ဟသုဖ အ
၄၇ မျိုးသား၊ တဗ္ဗောက် အမျိုးသား၊- ကေရုတ်အ
မျိုးသား၊သီအာအမျိုးသား၊ပါဒုန်အမျိုးသား၊-
၄၈ လေဗနအမျိုးသား၊ ဟာဂဗအမျိုးသား၊ ရှာလ
၄၉ ဓဲအမျိုးသား၊- ဟာနန်အမျိုးသား၊ ဂိဒ္ဒေလအ
၅၀ မျိုး သား၊ ဂါဟာ အမျိုး သား၊- ရာယ အမျိုး
သား၊ ရေဇိန် အမျိုး သား၊ နေကောဒ အမျိုး
၅၁ သား၊- ဂဇ္ဇမ်အမျိုးသား၊ ဩဇ အမျိုးသား၊ ပါ
၅၂ သာအမျိုးသား၊-ဗေသဲအမျိုးသား၊ မုနိမ်အမျိုး
၅၃ သား၊ နေဖိရှေသိမ် အမျိုးသား၊- ဗာကဗုတ် အ
မျိုးသား၊ ဟာကုဖ အမျိုးသား၊ ဟာရဟုရအ
၅၄ မျိုးသား၊- ဗာဇလိတ် အမျိုးသား၊ မေဟိဒ အ
၅၅ မျိုးသား၊ ဟာရရှအမျိုးသား၊- ဗာရကုတ် အ
မျိုး သား၊ သိသရ အမျိုး သား၊ တာမ အ မျိုး
၅၆ သား၊- နေဇိ အမျိုး သား၊ ဟတိဖ အမျိုး သား
တည်း။
၅၇ ရှောလမုန် ၏ အစေခံ ကျွန်၊ သော တဲ အမျိုး
သား၊ သော ဖရက် အမျိုး သား၊ ပေရိဒ အမျိုး
၅၈ သား၊- ယာလ အမျိုးသား၊ ဒါကုန်အမျိုးသား၊
၅၉ ဂိဒ္ဒေလအမျိုးသား၊- ရှေဖတိအမျိုးသား၊ဟတ္တိ
လအမျိုးသား၊ ပေါခရက်အမျိုးသား၊ဇေဗိမ်အ
၆၀ မျိုးသား၊ အာမုန် အမျိုး သား တည်း။- ဘုရား
ကျွန်နှင့် ရှောလမုန်၏ ကျွန်ပေါင်းကား သုံးရာ
ကိုးဆယ် နှစ်ယောက်တည်း။
၆၁ ထိုမှတပါး၊ ဣသရေလအမျိုး ဖြစ်သည် ဖြစ်
သည်ကိုရှင်၊ မိမိတို့အဆွေအမျိုးကိုရှင်း၊ မပြနိုင်
သဲလေသမေလမြို့၊ တေလဟာရရှမြို့၊ ခေရုဗ်မြို့၊
အဒ္ဒုန်မြို့၊ ဣမေရမြို့မှထွက်သွားသောသူ တို့ ရှိ
၆၂ ကား၊- ဒေလာယ အမျိုးသား၊ တောဘိ အမျိုး
သား၊ နေကောဒ အမျိုးသား ပေါင်း ခြောက်ရာ
လေးဆယ် နှစ်ယောက်တည်း။
၆၃ ယဇ် ပရောဟိတ် အမျိုး ထဲက ဟဗာယ အ
မျိုးသား၊ ကောဇ အမျိုးသား၊ ဂိလဒ်ပြည်သား
ဗာဇိလဲ သို့၊ တယောက်နှင့် စုံဖက် ၍ ထောသူ၏
အမည်ကိုရသောဗာဇိလဲ အမျိုးသားတို့သည်-
၆၄ ခေါင်းဝင်သောသူစုတွင်၊မိမိတို့စာရင်းကိုရှာ၍
မတွေ့ သော ကြောင့်၊ အမျိုး မစစ်၊ ယဇ်ပရော
၆၅ ဟိတ် အရာကို မခံရကြ။- ဥရိမ် နှင့် သုမိမ်ပါ
သောယဇ်ပရောဟိတ်မပေါ်မှီ ထိုင်စေသော်၊ သူ
တို့သည် အလွန်သန့်ရှင်းသော အရာတို့ကို စားရ
ရထုံးပြည်ဘုဝ်မင်းမိန့်၏။
၆၆ ပရိသတ် ပေါင်း ကား လေးသောင်း နှစ်

၆၇ ကျွန်ယောကျာ်း၊ ကျွန်မိန်းမပေါင်း ခုနစ်ထောင်သုံးရာ သုံးဆယ်ခုနစ်ယောက်တည်း။ ထိုမှတ
ပါး ကျွန်ယောကျာ်း၊ ကျွန်မိန်းမပေါင်း၊ ခုနစ်ထောင်
သုံးရာ သုံးဆယ် ခုနစ်ယောက်၊ သီချင်းသည်
ယောကျာ်း မိန်းမ ပေါင်း၊ နှစ်ရာ လေးဆယ် ငါး
၆၈ ယောက်၊-မြင်းပေါင်း ခုနစ်ရာသုံးဆယ်ခြောက်
၆၉ စီး၊ လားပေါင်း နှစ်ရာ လေးဆယ် ငါးစီး၊- ကု
လားအုတ် ပေါင်း လေးရာ သုံးဆယ် ငါး စီး၊ မြည်း
ပေါင်းခြောက်ထောင် ခုနစ်ရာ နှစ်ဆယ်တည်း။

၇၀ အဆွေအမျိုးသူကြီးအချို့တို့သည်အမှုတော်
ကိုဆောင်ရွက်စရာလှူကြ၏။မြို့ဝန်မင်းသည်
ရွှေဒင်္ဂါးတထောင်၊ ဖလားငါးဆယ်၊
ယဇ်ပုရောဟိတ် အဝတ်နှင့်ငါးရာ သုံးဆယ် ကို
၇၁ အလှူတော်ထဲသို့သွင်းလေ၏။- အဆွေအမျိုး
သူကြီး သွင်းသော ရွှေငွေပေါင်းကား၊ ရွှေဒင်္ဂါး
နှစ်သောင်း၊ ငွေအချိတ် နှစ်ထောင်နှစ်ရာ
၇၂ တည်း။-ကြွင်းသောသူတို့သည်ထည့်၊ ရွှေဒင်္ဂါး
နှစ်သောင်း၊ ငွေအချိတ်နှစ်ထောင်၊ ယဇ်ပုရော
ဟိတ်အဝတ်နှင့်ခြောက်ဆယ်ခုနစ်ခုကို သွင်းကြ
၇၃ ၏။- ထိုသို့ယဇ်ပုရောဟိတ်၊ လေဝိသား၊ တံခါး
စောင့်၊ သီချင်းသည်၊ လူမညလူအချို့၊ ဘုရား
ကျွန်အစရှိသော ဣသရေလပြည်သူ ပြည်သား
အပေါင်းတို့သည်၊ မိမိတို့နေရာမြို့ရွာတို့၌ နေရာ
ကျကြ၏။

၈

၁ သတ္တမလရောက်မှ၊ မြို့ရွာအရပ်ရပ်၌နေသော
ဣသရေလအမျိုးသားလူအပေါင်းတို့သည်တ
ညီတညွတ်ရေတံခါးလမ်းတွင်စည်းဝေးကြ၏။ ဣသရေ
လအမျိုး၌၊ ထာဝရဘုရား ထားတော် မူသော
မောရှေပညတ်ကျမ်းစာကိုဆောင်ခဲ့ပါဟု ကျမ်း
၂ တတ်ဆရာဧဇရကို တောင်းသည်အတိုင်း- နား
ထောင် နား လည် နိုင် သမျှသော ပရိသတ်
ယောကျာ်းမိန်းမတို့ ရှေ့သို့ သတ္တမ လ၊ ပဌမနေ့
ရက်တွင်၊ ပညတ်ကျမ်းစာကို ယဇ်ပုရောဟိတ်
၃ ဧဇရသည်ဆောင်ခဲ့၍- နားလည် နိုင်သောသူ၊
ယောကျာ်းမိန်းမတို့ရှေ့မှာ နံနက်အချိန်မှစ၍ မွန်း
တည့် အချိန် တိုင် အောင်၊ ရေ တံခါး လမ်း တွင်
ဖတ် ရွတ် လေ ၏။ လူ အပေါင်း တို့သည် ပညတ်
၄ ကျမ်း စကားကိုစေ့စေ့ နားထောင်ကြ၏။- သူတို့
လုပ် ကြသော သစ်သား စင်ပေါ် မှာ၊ ကျမ်းတတ်ဆရာဧဇရသည်ရပ်၍ မဿိ
သိ၊ ရှေမ၊ အနာယ၊ ဥရိယ၊ ဟိလခိ၊ မာသေယတို့
သည်လက်ျာဘက်၌ ရပ်၊ ပေဒါယ၊ မိရှေလ၊ မာ
လခိ၊ ဟာရှုံ၊ ဟာရှဗဒါန၊ ဇာခရိ၊ မေရှုလံတို့
၅ သည်လက်ဝဲဘက်၌ရပ်ရပ်နေကြ၏။-ထိုနောက်
ဧဇရသည်လူအပေါင်းတို့ထက်သာ၍မြင့်လျက်၊ လူ
အပေါင်းတို့ ရှေ့မှာ ကျမ်းစာကို ဖွင့်သောအခါ၊
၆ လူအပေါင်း တို့သည်ထကြ၏။-ဧဇရသည်မြတ်
စွာဘုရား အခင် ထာဝရဘုရားကို ကောင်းကြီး
ပေး၏။ လူ အပေါင်းတို့က အာမင်၊ အာမင်ဟု၊
လက်တို့ကိုချီလျက်၊ ဝပ်၍ဦးချပြပ်ဝပ်လျက်၊
၇ ထာဝရဘုရားကိုကိုးကွယ်ကြ၏။- ယောရှုမှာ
နိ၊ ရှေရဘိ၊ ယာမိန်၊ အက္ကုဗ်၊ ရှဗ္ဗေသဲ၊ ဟောဒိ
ယ၊ မာသေယ၊ ကေလိတ၊ အာဇရိ၊ ယောဇဗဒ်၊
ဟာနန်၊ ပေလာယ အစရှိသော လေဝိ သား တို့
သည်၊ လူများတို့အား ပညတ်ကျမ်း ၏
အနက် ကို ပြန် ကြား ကြ ၏။ လူ များ တို့ သည်
၈ တည်း၊ မိမိတို့ နေရာ၌ နေကြ၏။- ထိုသို့ဘုရား
သခင်၏ပညတ်ကျမ်းစာကို သေချာစွာဖတ်ရွတ်
၍၊ အနက်ကိုပြန်သဖြင့်၊ လူများနားလည်စေ
ခြင်းငှါပြုကြ၏။

၉ လူအပေါင်း တို့သည်ပညတ်ကျမ်းစကားကို
ကြား သော အခါ၊ ငိုကြွေးကြသည်ဖြစ်၍၊ မြို့
စုပ်မင်း နေဟမိ၊ ကျမ်းတတ်ဆရာ ယဇ်ပုရော
ဟိတ်ဧဇရ၊ လူများ တို့အား သွန်သင်သော လေ
ဝိသား တို့က၊ ဤသည် နေ့ရက် သည် သင်တို့၏
ဘုရား သခင်ထာဝရဘုရား အဖို့ သန့်ရှင်းသော
နေ့ဖြစ်၏။ ငိုကြွေးမြည်တမ်းခြင်းကိုမပြုကြနှင့်။-
၁၀ သွားကြလော့၊ မြိန်စွာသော အစာကို စားကြ
လော့၊ ချိုသော အရည်ကို သောက်ကြ လော့။
ဆင်းရဲသောသူတို့အား ဝေမျှကြလော့။ ဤသည်
နေ့ရက်သည်ငါတို့ ဘုရားရှင်အဖို့ သန့်ရှင်း၏။
ဝမ်း မနည်းကြနှင့်။ ထာဝရဘုရား ပေးတော်မူ
သော အ ရွှင်နှင့် အားထူ၍ ဝမ်းမြောက်ကြလော့
၁၁ ဟု၊ လူအပေါင်းတို့အား ဆိုကြ၏။- ထိုသို့လေဝိ
သားတို့က၊ ဤသည်နေ့ရက်သည်သန့်ရှင်းသော
နေ့ ဖြစ် သော ကြောင့်၊ တိတ် ဆိတ် စွာ နေကြ
လော့၊ ဝမ်းမနည်းကြနှင့်ဟု ဆို၍၊ လူ အပေါင်း
၁၂ တို့ကိုငြိမ်းစေကြ၏။-လူအပေါင်းတို့သည်ဟော
ပြောသောစကားများကိုနားလည်သောကြောင့်၊
စားသောက်ခြင်း၊ သူတပါးတို့အား ဝေမျှခြင်း၊
အလွန် ပျော်မွေ့ခြင်းကို ပြုအံ့သောငှါ သွားကြ
၏။

၁၃ ဒုတိယနေ့ရက်တွင်၊ အဆွေအမျိုးသူကြီးများ
တို့နှင့်တကွယဇ်ပုရောဟိတ်လေဝိသားတို့သည်၊

ဝဉ္ဆုံ ထျမ်းစကားကို နားထည့် ထံ့သောငှါ
ကျမ်းထက် ဆရာ စောရထံ၌ စည်းဝေး ကြ၏။-
၅၂ အထွဋ်ပတ ပွဲကိုခံကြစည်၊ ဗုဒ္ဓရေထ အမျိုးသား
အပေါင်း ထိုသည် ထမ်းတတ် ထဲ၌ နေရ ကြစည်
ထုံးမောရှေထား ခြင့်ထာဝရဘုရား ထားတော်မူ
သော ဝဉ္ဆုံ ထျမ်းစာ၌ ရေးထား ကြောင်းကို
၅၃ တွေ့ကြ၏။-ထိုစကားကိုကြားသောအခါ၊ကျမ်း
စာ၌ ပါသည်အတိုင်း၊ ထမ်းတတ်ထဲထိုကို ထုတ်
ခြင်းငှါ သောင်ထို့ သွားကြ၊ ထံလွှင်စတ်၊ ထင်း
ရှုးခတ်၊ ဝှရထုတ်၊ ခွန်ပလှံခတ် အစရှိသော၊
ထုထစ်သော အစက်အထက်မျိုးထိုကို ဆောင်နှဲ
ကြထု၊ သောရူရှထင်မြို့မှစ၍ ဆိတ်ထိမ်းသော မြို့ရှာ
၅၄ ထို့၌ကျော်ညာကြ၏၊-ထုရှားထို့သဉ်ထွက် သွား
၍၊ထမ်းခတ်ထိုကိုဆောင်နှဲ ပြီးလျှင်၊ ဖိမ်မိုးပေါ်
မှာရင်း၊ မိမိဝင်းထဲ၊ မိတ်မှန် တော် တန်တိုင်း ထဲ
မှာရင်၊ရေတံခါးထမ်းနှင့်ပေရိမ်တံခါးထမ်းမှာ
၅၅ ရင်၊ ထမ်းဝက်ထဲမျှားကိုထုပ်ကြ၏၊- ထိုသို့သိမ်း
သွား ခြင်း ကို ခံရရာ ထဲက၊ ထွက်ထာ သော ဝ
ရိထတ် အပေါင်း တို့ ထည် ထမ်း ခတ် ထဲတို့ ကို
ထုပ်၍ထိုင်နေကြ၏၊နွန်ထားသောရှုထက်ထတ်
မှစ၍၊ ဗုဒ္ဓရေထ အမျိုးသားတို့သဉ်တစ်ခါမျှထို
ထို့မပြုကြ၊အထွန်ဝမ်းမြောက်လျက်နေကြ၏။-
၅၆ ဝဠ္ဆုနေ့မှစ၍ နောက်ဆုံးသော နေ့ တိုင်အောင်၊
နေ့ရက်အစည်အတိုင်း ဘုရားသခင်၏ ပညတ္တိ
ကျမ်းစာကို ဝတ်ရွတ်ကြ၏၊ ထိုပွဲကို ခုနှစ်ရက်
ပတ်လုံး ခံကြ၏၊ ရှစ်ရက် မြောက်သော နေ့၌
ထရားတော်အတိုင်းဝေး ပွဲကိုထည်းခံကြ၏။

၂၄

၁ ထိုထနှစ်ထယ်သေးရက်နေ့တွင်၊ ဗုဒ္ဓရေထ
အမျိုးသား ထိုထည် အစာ ရှောင်လျက်၊ လျှော်
တေ အဝတ်ကို ဝတ် လျက်၊ ကိုယ်ပေါ်၌ မြေမှုန့်ကို
၂ ထင်လျက်စည်းဝေးကြ၏၊-ထိုအခါဗုဒ္ဓသရေထ
အမျိုးမစ်ဖြစ်သောသူတို့သည်တပါးအမျိုးသား
ရှိသမျှ ထို့နှင့် ကွာ၍၊ ကိုယ်အပြစ်နှင့် ထိုးတေး
၃ တို့၏အပြစ်များကိုဖော်ပြတောင်းပန်ကြ၏။-မိမိ
ထို့နေရာ၌ ရပ်နေ၍၊ မိမိတို့ဘုရားသခင် ထာဝရ
ဘုရား၏ပညတ္တိကျမ်း၊စာကိုနေ့ထေးစုတစုတတ်
ကြ၏၊ အပြစ်ကို ဖော်ပြ တောင်း ပန် ၍၊ မိမိထို
ဘုရား ထခင် ထာဝရ ဘုရား ကို ရှိ ထေးစု တစု
တိုးကွယ်ကြ၏။
၄ ထိုအခါ လေဝိသား၊ ယောရှု၊ ဗာနိ၊ ကဒ်မျေ
ထ၊ ရှေဗနိ၊ ဗုန္နိ၊ ရှေရဘိ၊ ဗာနိ၊ ခေနနိထိုသည်
၅ ပထ္ထင်ပေါ်မှာရပ်၍၊ထုထို့၏ဘုရားသခင်ထာဝ
ရဘုရား၊အားကြီးစွာသောအသံနှင့် ကျေးကြော်
ကြ၏။-ထခန်ထေဝိထားယောရှု၊ကဒ်မျေထ၊ပေ
နိ၊ထောရှုဗနိ၊ရှေရဘိ၊ထောဒိယ၊ရှေဗနိ၊ပေထ
ထိထို့ကထကြသော၊ ထင်ထို့၏ဘုရားသခင်ထာ
ဝရဘုရားသည် အစဉ် အမြဲ ဗဝိထာရှိတော်မူ၏
ထတည်ထေု၊ထောင်းကြီးပေးကြသော၊ထောင်း
ကြီးပေးခြင်း၊ ချီးမွမ်းခြင်း၊ အမျိုးမျိုးထတ် ကြီး
ခြင့်၍၊ ထုန်းကြီးသော ကိုယ်တော်၏ နာမထည်
၆ ဗဝိထာရှိပါစေသတည်း။-ကိုယ်တော်သာလျှင်
ထာဝရ ဘုရား ဖြစ်တော် မူ၏၊ အမြင့် ဆုံး သော
ကောင်းကင်နှင့် ကောင်းကင် မိုလ်ခြေ အပေါင်း
ထိုကိုဒင်၊မြေကြီးနှင့်မြေကြီးပေါ်မှာရှိသမျှထို
ကိုဒင်၊ပင်လယ်နှင့်ပင်လယ်၌ပါသမျှထို့ကိုဒင်
ဖန်ဆင်းတော်မူ၏၊ အထုံးစုံထိုကို စောင့်တော်
မူ၏၊ ကောင်းကင် မိုလ်ခြေထို့သည် ကိုယ်တော်
၇ ကိုကိုးကွယ်ကြပါ၏၊- ထိုထာဝရအရှင် ဘုရား
ထခင်၊ကိုယ်တော်သည်အာဗြံကိုရွေးရှုယ်၍ ခါ
ထဲပြည်၊ ဥရမြို့မှခေါ်နဲ့ပြီးလျှင်၊ အာဗြံထဲထု
၈ သော အမည်ကို ပေးတော်မူ၏၊- ရှေ့တော်၌ ထု
ထဲ သောခြောင့် ထည်ကို တွေ့သောကြောင့်၊ခါနံ
နိပြည်၊ ဟိတ္တိ ပြည်၊ အာမောရိ ပြည်၊ ပေရိဇိ
ပြည်၊ယေဗုသိပြည်၊ ဂိရဂါရှိပြည်ထို့ကိုအာဗြ
ထံ အမျိုး အနွယ် အား ငါ ပေး စည် ထု၊ ဝန်ခံ
ထည်အတိုင်း ထဗ္ဗာတော်မဟုတ်၊ပြုတော်မူ၏။-
၉ ဆဲရုဏ္ဏပြည်၌ အကျွန်ုပ်ထို့၏ ထိုးဘေးများခံရ
သောညည်း ဆဲခြင်း၊ကိုမြင်၍၊ ဧရိယင်ထယ် နား
မှာသူထို့ အော်ထင်သော အသံကို ကြားတော်မူ
၁၀ ၏၊- ဖာရော ဘုရင်နှင့် သူ၏ ကျွန် မှား၊ ပြည်သူ
ပြည် ထားအပေါင်း၊ထိုထည် အကျွန်ုပ်ထို့၏ ထိုး
ဘေးထို့ကိုဖော်ကား စွာပြုသောကြောင့်၊ကိုယ်
တော်သည်ကြည့်ရှု၍နေတော်မမူ၊ထိုပြဦးသား
ထို့၌ နိမိတ်လက္ခဏာနှင့်ထုံ့ဖွယ်သောအမှုထို့ကို
ပြတော် မူ၍၊ ထိ ထင်း တော် ထည် ထနေ့ ထိုင်
၁၁ အောင် ကျော်စောလျက်ရှိပါ၏။- ထုထို့ထည်ပင်
ထယ်အထယ်၌ မြေပေါ်မှာရှောက်သွားမည်အ
ကြောင်း၊ ထုထို့ရှေ့မှာ ပင်ထယ်ကို ခွဲတော် မူ၏၊
ညည်း၊ ဆဲသော ထုထို့ကိုကား၊ နက်သော ရေထဲ
၁၂ ထို့ကျောက်ကိုပြစ်ထကဲ့သို့ပြစ်တော်မူ၏။- ထို့မှ
ထပါး၊နေ့အချိန်၌မိုးယံ၊ထိမ်ထိုင်အား ဖြင့်ရင်၊
ညည့် အချိန်၌ သူထို့ သွားရာ ထမ်းကို ထမ်းစေ
သော မီး ထိုင် အား ဖြင့်ရင်၊ ထုထို့ကို ပို့ ဆောင်

၁၃ တော်မူ၏။- ကိုယ်တော်တိုင်လည်း၊ သိနာတောင်
ပေါ်သို့ဆင်းသက်၍မိုဃ်းကောင်းကင်ထဲကဗျာ
ဒိတ်သံကို လွှတ်သဖြင့်၊ တုတ်မှန် ဖြောင့် မတ်
သောစီရင်ထုံးဖွဲ့ချက် ပညတ်တရားတို့ကို အပ်
၁၄ ပေးတော်မူ၏။- သန့်ရှင်းသော ဥပုသ်နေ့ရက်
တော်ကိုဖော်ပြ၍၊ကိုယ်တော်ကျွန်မောရှေအား
ဖြင့်၊နည်းနာဥပဒေသပညတ်တရားတို့ကိုလည်း
၁၅ ထား တော်မူ၏။- သူတို့ မွတ်သိပ် ခြင်းနှင့် ရေ
ငတ်ခြင်းကို ပြေစေခြင်းငှါ၊ မိုဃ်းကောင်းကင်
မုန့်နှင့် ကျောက် ထဲက ထုတ်သော ရေကို ပေး
တော်မူ၏။ သူတို့ ပိုင်တို့ ကျိန် ဆိုတော် မူသော
ပြည်ထဲသို့ဝင်၍၊ သိမ်းယူမည် အကြောင်း မိန့်
၁၆ တော်မူ၏။- သို့ရာတွင်၊အကျွန်ုပ်တို့ဘိုးဘေးတို့
သည်မာနထောင်လွှား၍၊မိုင်မာသောလည်ပင်း
၁၇ နှင့်ပညတ်တော်ကိုနားမထောင်ကြ။-သူတို့တွင်
ပြု တော် မူသော၊ အံ့ ဖွယ် သော အမှု တို့ကို မ
အောက်မေ့။ အာဏာတော်ကို ငြင်းဆန်လျက်၊
လည်ပင်းမိုင်မာသည်ဖြစ်၍၊ကျွန်ခံရာအဲဂုတ္တု
ပြည်သို့ ပြန် လို သောငှါ၊ လူ ကြီး တဦး ကို ချီး
မြှောက်ကြ၏။ သို့ရာတွင်၊ ကိုယ် တော်သည် အ
ပြစ်ကို ဖြေတတ် သော ဘုရား၊ ချစ်သနား ခြင်း
မေတ္တာ ကရုဏာ နှင့် ပြည့်စုံ၍၊ စိတ်ရှည်ခြင်း၊
ကျေး ဇူး ပြုခြင်း နှင့် ကြွယ် ဝ သော ဘုရား ဖြစ်
တော် မူသော ကြောင့်၊ သူတို့ကို စွန့်ပစ်တော်မ
၁၈ မူ။- ထိုမျှမက၊သူတို့သည်နွားသငယ်အရုပ်ကို
သွန်း၍၊ဣသရေလအမျိုး၊ဤဘုရားသည်သင့်
ကို အဲဂုတ္တု ပြည်မှ နှုတ် ဆောင် သော သင်၏
ဘုရားဖြစ်တော်မူ၏ဟု ဆိုလျက်၊အလွန်ပြစ်မှား
၁၉ သော်လည်း -ကိုယ်တော်သည်အထူးသဖြင့်သ
နားတတ်သော ဘုရားဖြစ်တော်မူ၍၊ တော၌သူ
တို့ကို စွန့် ပစ်တော် မမူ။ နေ့ အချိန်၌ လမ်းပြ
သောမိုဃ်းတိမ်တိုင်မပျောက်။ ညဉ့်အချိန်၌
သူတို့ သွားရာ လမ်းကို လင်း စေ သောမီး တိုင်
၂၀ လည်း မကွယ်။- သူတို့ အား သွန် သင် စရာ ဘို့
ကောင်းသောဝိညာဉ်တော်ကိုပေးတော်မူ၏။သူ
တို့ စား ရသော ကိုယ် တော်၏ မန္နကို ရုပ် သိမ်း
တော်မမူ။ သူတို့အငတ် ပြေစေခြင်းငှါ၊ ရေကို
၂၁ လည်း ပေးတော်မူ၏။- အနှစ် လေးဆယ် ပတ်
လုံး၊ သူတို့ကိုအလျှင်းမဆင်းရဲစေခြင်းငှါကျွေး
မွေးတော်မူ၏။ သူတို့အဝတ်မဟောင်းမနွမ်းရ။
၂၂ သူတို့ခြေသည်လည်းမပွန်းမရောင်ရ။-နောက်မှ
တပါးအမျိုးသားတို့၏တိုင်း နိုင်ငံများကိုသူတို့
အား၊ အကုန်အစင် ဝေဖန်၍၊ ပေးသနားတော်
မူသဖြင့်၊ သူတို့သည်ဟေရှဘုန်ရှင်ဘုရင်ရှိဟုန်
နှင့်၊ ဗာရှန်ရှင်ဘုရင်ဩဃအစိုးရသောပြည်တို့
၂၃ ကိုသိမ်းယူကြ၏။- သူတို့သားမြေးတို့ကို မိုဃ်း
ကောင်းကင်ကြယ်ကဲ့သို့ များပြားစေတော်မူ၏။
အကြင်ပြည်ထဲသို့ သူတို့ဝင်၍ သိမ်းယူမည်အ
ကြောင်း၊ သူတို့၏ ဘိုး ဘေး တို့အား ဂတိ ထား
တော်မူ၏။ ထိုပြည်ထဲသို့ သွင်းတော် မူသဖြင့်-
၂၄ သားမြေးတို့သည်ဝင်၍သိမ်းယူကြ၏။သူတို့ရှေ့
မှာ၊ ထိုပြည်သားခါနာန်လူတို့ကိုနှိပ်စက်တော်
မူ၍၊ ရှင်ဘုရင်အစရှိသောပြည်သူပြည်သားတို့
ကိုပြုချင်သမျှပြုရသောအခွင့်နှင့် သူတို့လက်သို့
၂၅ အပ်တော်မူ၏။- ထိုသို့သူတို့သည် ခိုင်ခံ့သောမြို့
များ၊မြေကောင်းသောပြည်၊ဥစ္စာနှင့်ပြည့်သော
အိမ်၊ တူး ပြီး သော ရေ တွင်း၊ များ ပြား သော
စပျစ်ဥယျာဉ်၊သံလွင်ဥယျာဉ်၊ အသီးသီးသောအ
ပင်တို့ကိုသိမ်းယူ၍၊ဝစွာစားသောက်လျက်အ
သားဆူဖြိုး၍ကျေးဇူးတော် ကြွယ်ဝခြင်း၌မွေ့
၂၆ လျော်ကြ၏။- သို့ရာတွင်၊ အမိန့်တော်ကိုနားမ
ထောင်၊ ပုန် ကန် လျက် တရား တော် ကို ကျော
နောက်သို့ပစ်ထားကြ၏။အထံတော်သို့ပြန်လာ
စေခြင်းငှါ၊ ဆုံးမသောကိုယ်တော်၏ ပရောဖက်
တို့ကိုသတ်၍၊အလွန်ပြစ်မှားခြင်းကိုပြုကြ၏။-
၂၇ ထို ကြောင့်၊ သူ တို့ကို နှောင့် ရှက် သော ရန် သူ
လက်သို့ အပ်လိုက် တော် မူ၏။ ဆင်းရဲ ခံရ၍၊
ကိုယ်တော်ကိုအော်ဟစ်ကြသောအခါ၊ကောင်း
ကင်ဘုံကနားထောင်၍၊ကရုဏာကျေးဇူးတော်
ကြွယ် ဝ သည် အ တိုင်း၊ ရန် သူ လက် မှ ကယ်
လွှတ်သောကျေးဇူးရှင်တို့ကိုပေါ်ထွန်းစေတော်
၂၈ မူ၏။- တဖန် ချမ်းသာ ရသောအခါ၊ ရှေ့တော်၌
ဒုစရိုက်ကိုပြုပြန်ကြသော ကြောင့်၊ ရန်သူအစိုး
ရမည်အကြောင်း၊ တဖန်အပ် တော်မူ၏။ သူတို့
သည် ပြန်လာ၍၊ ကိုယ်တော်ကို အော်ဟစ်ကြ
သောအခါ၊ ကောင်းကင်ဘုံကနားထောင်၍၊ က
ရုဏာတော် ရှိသည် အတိုင်း၊ အထပ်ထပ်ကယ်
၂၉ တင်တော်မူ၏။-တရားတော်ကိုကျင့်ပြန်စေခြင်း
ငှါ၊ ဆုံးမတော် မူသော်လည်း၊ သူတို့သည် နားမ
ထောင်၊မာနထောင်လွှားကြ၏။ ကျင့်သောသူ၌
အသက်ရှင်စရာအကြောင်းဖြစ်သောစီရင်တော်
မူချက်တို့ကိုလွန်ကျူးကြ၏။ မိုင်မာသောလည်
၃၀ ပင်းနှင့်ရုန်းလျက်၊နားမထောင်ဘဲနေကြ၏။-နှစ်
ပေါင်းများစွာ သူတို့ကို သည်းခံ၍၊ ကိုယ်တော်

ပရောဖက်တို့၌ ရှိသော ကိုယ်တော်၏ ဝိညာဉ်
အားဖြင့်သက်သေခံတော်မူသော်လည်း၊ သူတို့သည်
နားမထောင်သောကြောင့်၊ ဤပြည်သူပြည်သား
၃၁ တို့လက်သို့အပ်တော်မူ၏။- သို့ရာတွင်၊ ကိုယ်
တော်သည် ချစ်သနားခြင်း ကရုဏာကျေးဇူးနှင့်
ပြည့်စုံသောဘုရားဖြစ်၍၊ ကရုဏာတော်ကြွယ်
ဝသောကြောင့်၊ သူတို့ကို ရှင်းရှင်း ဖျက်ဆီး
၃၂ တော်မမူ၊ စွန့်ပြစ်တော်မမူ- သို့ဖြစ်၍၊ အို အ
ကျွန်ုပ်တို့၏ဘုရား၊ ကြီးမြတ်၍မဟာတန်ခိုးနှင့်
ပြည့်စုံလျက်၊ ကြောက်မက် ဖွယ်သော ဘုရား၊
ကရုဏာ ပဋိညာဉ်တော်ကို စောင့်တော်မူသော
ဘုရား၊ အာရှုရိရှင်ဘုရင်လက် ထက်မှ စ၍ ယ
နေ့တိုင်အောင်၊ အကျွန်ုပ်တို့ ရှင်ဘုရင်၊ မှူးမတ်၊
ယဇ်ပုရောဟိတ်၊ ပရောဖက်၊ အဘွားအမျိုးသူ
ကြီး၊ ကိုယ်တော်၏လူ အပေါင်းတို့ အပေါ်သို့
ရောက်သောဆင်းရဲခြင်းရှိသမျှကို၊ ပမာဏမပြု
၃၃ ဘဲနေတော် မမူပါနှင့်။- ကိုယ်တော်မူကား၊ အ
ကျွန်ုပ်တို့အပေါ်သို့ ရောက်လေသမျှသော အမှု၌
တရားတော်မူ၏၊ အကျွန်ုပ်တို့ သည် မတရားသ
ဖြင့်ပြုကြပါပြီ၊ ကိုယ်တော်သည် တရားသဖြင့်
၃၄ ဆောင်ရွက်တော်မူပြီ။- အကျွန်ုပ်တို့ရှင်ဘုရင်၊မှူး
မတ်၊ယဇ်ပုရောဟိတ်၊ အဘွားအမျိုး သူကြီးတို့
သည်တရားတော်ကို မစောင့်၊ ပေးထားတော်မူ
သောပညတ်များနှင့်၊သက်သေခံချက်များတို့ကို
၃၅ နားမထောင် ကြ။- ကြီးသော ကျေးဇူး ကို ပြု
လျက်အပ် ပေးတော်မူ၍၊ သူတို့ပိုင်သော နိုင်ငံ၊
သနားတော်မူသောပြည်ကြီး၊ပြည်ကောင်း၌နေ
ရသော်လည်း၊ အမှုတော်ကိုမဆောင်မရွက်၊မိမိ
တို့ပြုသော ဒုစရိုက်ကို မရှောင်ဘဲ နေ ကြပါ၏။-
၃၆ ထိုးထောတို့သည် အသွန်မြတ်သော အသီးအနှံ
တို့စားရသော အခွင့်နှင့်၊ သူတို့အား ပေးသနား
တော်မူသောပြည်၌၊အကျွန်ုပ်တို့သည်ယနေ့ အ
၃၇ စေခံကျွန်ဖြစ်ကြပါ၏၊ ထိုကျွန် ခံရကြပါ၏။- အ
ကျွန်ုပ်တို့အပြစ်ကြောင့်၊ အကျွန်ုပ်တို့ အပေါ်မှာ
ခန့် ထားတော် မူ သော ရှင် ဘုရင် တို့ သည်၊ ဤ
ပြည်၌ ကြွယ် ဝစွာ ဖြစ် သော အသီး အနှံ ကို
သိမ်းထားပြီ ရှိကြပါ၏။ အကျွန်ုပ်တို့၏ ကိုယ်နှင့်
တိရစ္ဆာန် များကို၊ သူတို့ သည် ကိုယ်အလို အ
လျောက်အစိုးပိုင်၍၊ အကျွန်ုပ်တို့သည် အသွန်
ဆင်းရဲခံလျက်နေရပါသည်ဟုပြုက်ဆိုကြ၏။
၃၈ ထိုအကြောင်း အရာ များကို ငါတို့ သည် ထာဝ
ရဘုရားနှင့် သစ္စာပြု၍စာချုပ်ကိုလည်းရေးထား
လျက်၊ငါတို့အကြီးအကဲ၊ လေဝိ၊ ယဇ်ပုရောဟိတ်တို့သော
ဝိသားတို့သည်တံဆိပ်ခတ်ကြ၏။

၁၀

၁ တံဆိပ်ခတ်သောသူဟူမူကား၊ ဟာခလိသား
ပြည်အုပ်မင်းနေဟမိ၊ ယဇ်ပုရောဟိတ် ဇိဒကိ
၂၊၃ ယ၊- စရာယ၊ အာဇရိ၊ယေရမိ၊- ပါရှုရ၊ အာမ
၄ ရိ၊ မာလခိယ၊- ဟတ္တုတ်၊ ရှေဗနိ၊ မလ္လုတ်၊-
၅၊၆ ဟာရိမ်၊ မေရမုတ်၊ ဩဗဒိ၊- ဒံယေလ၊ ဂိနေ့
၇ သုန်၊ ဗာရုတ်၊- မေရှုလံ၊ အဘိယ၊ မိယာမိန်၊-
၈၊၉ မာဇိ၊ ဗိလဂဲ၊ ရှေမာယ၊- လေဝိသားအာဇနိ
သားယောရှုတပါး၊ ဟေနဒဒ်သား ဗိန္နုအပါး၊
၁၀ ကဒ်မျေလတပါး၊- သူတို့ညီရှေဗနိ၊ ဟောဒိယ၊
၁၁ ကေလိတ၊ ပေလာယ၊ ဟာနန်၊- မိက္ခာ၊ ရေဟုဗ်၊
၁၂၊၁၃ ဟာရှဗိ၊- ဇက္ကုရ၊ ရှေရဘိ၊ ရှေဗနိ၊- ဟော
၁၄ ဒိယ၊ ဗာနိ၊ ဗေနိနု၊-လူတို့တွင်အကြီးအကဲဖြစ်
သောပါရုတ်၊ ပါဟတ်မောအပ်၊ ဧလံ၊ ဇတ္တု၊
၁၅၊၁၆ ဗာနိ၊- ဗုန္နိ၊ အာဇဂဒ်၊ ဗေဗဲ၊- အဒေါနိယ၊ ဗိ
၁၇ ဂဝဲ၊ အာဒိန်၊- အာတာ၊ ဟိဇကိယ၊ အဇ္ဇုရ၊-
၁၈၊၁၉ ဟောဒိယ၊ ဟာရှုံ၊ ဗေဇဲ၊- ဟာရိပ်၊ အာနာ
၂၀ သုတ်၊ နေဗဲ၊- မာဂပျာရှ၊ မေရှုလံ၊ ဟေဇိရ၊-
၂၁၊၂၂ မေရှေဇဗေလ၊ ဇာဒုတ်၊ ယာဒွါ၊- ပေလတိ၊
၂၃ ဟာနန်၊ အနာယ၊- ဟောရှေ၊ ဟာနနိ၊ ဟာရှုဗ်၊-
၂၄၊၂၅ ဟာလောဟက်၊ ပိလဟ၊ ရှောဗက်၊- ရေဟုံ၊
၂၆ ဟာရှဗန၊ မာသေယ၊- အဟိယ၊ ဟာနန်၊ အာ
၂၇၊၂၈ နန်၊- မလ္လုတ်၊ ဟာရိမ်၊ ဗာနာအဦး။- ကြွင်း
သောလူ၊ ယဇ်ပုရောဟိတ်၊ လေဝိသား၊ တံခါး
စောင့်၊ သီချင်းသည်၊ ဘုရားကျွန် အစရှိသော၊
ဘုရား ထာဝရ ၏ တရားကို စောင့်ရှောက်သော ငါ၊ ထို
ပြည် သား ထို့ နှင့် ကွာ သော လူ အ ပေါင်း ထို့
သည် မယား သားသမီး တို့နှင့် တကွ၊ အကျိုးအ
၂၉ ကြောင်းကိုနားလည်သောသူဖြစ်၍- ညီအစ်ကို
မှူးမတ်တို့၌ မှီခိုလျက်၊ ဘုရားသခင်၏ကျွန်မော
ရှေအားဖြင့်၊ ထားတော်မူသော ဘုရား သခင်၏
တရားတော်အတိုင်း ကျင့်ပါမည်ဟူ၍၎င်း၊ ငါ
တို့အရှင်ထာဝရဘုရား၏ ပညတ် တော်များ စီ
ရင်ထုံးဖွဲ့တော်မူချက်ရှိသမျှတို့ကိုစောင့်ရှောက်
၃၀ ပါမည်ဟူ၍၎င်း- ကိုယ်သမီးတို့ကို ပြည်သားတို့
အားမပေးစား၊ ပြည်သားသမီးတို့ကိုကိုယ်သားတို့
၃၁ အဖို့ မသိမ်း မယူဘဲ နေပါမည်ဟူ၍ ၎င်း- ပြည်
သားတို့သည် ဥပုသ်နေ့၌ ဥစ္စာ၊ စားစရာကိုရောင်း
ခြင်းငှါယူခဲ့လျှင်၊ ဥပုသ်နေ့ဖြစ်စေ၊ အခြားသော
ပွဲနေ့ ဖြစ်စေ၊ မဝယ်၊ သတ္တမနှစ်တွင်အထွက်

ခြင်းအမှုကိုမပြု၊ ကြွေးကိုအနိုင်မတောင်းဘဲနေ
ပါမည်ဟူ၍ ငြင်း၊ ကျိန်ဆိုလျက် ထမ်းဝတ်ထား
ကြ၏။
၃၂ ထိုမှတပါး ငါတို့ဘုရားသခင်၏အိမ်တော်အ
၃၃ မှုတည်း၊ တည်သောမုန့်ပူဇော်ခြင်းနှင့် ထာဝရ နေ့တွင်
ရှေ့တော်၌ရှိသောတည်သောဘောဇဉ်ပူဇော်သက္ကာ၊
ဥပုသ်နေ့၊ လဆန်း၊ ပွဲ၊ သန့်ရှင်းသော အ
သုံးအဆောင်၊ ဣသရေလအမျိုး၏အပြစ်ဖြေရာ
ယဇ်၊ အစရှိသော၊ ငါတို့၏ ဘုရားသခင် အိမ်
တော်အမှု အလုံးစုံကို ဆောင်ရွက်စရာအို၊ လူ
တိုင်း တနှစ်လျှင် ငွေတကျပ် သုံးစုတစု စီပေးရ
မည်အကြောင်း၊ ကိုယ်အမှီစီရင်ထုံးဖွဲ့ကြ၏။-
၃၄ ပညတ်ကျမ်း၌ရေးထားသည်အတိုင်း၊ ငါတို့
ဘုရားသခင်ထာဝရဘုရား၏ယဇ်ပလ္လင်ပေါ်မှာ
မီးရှို့စရာထင်းပူဇော်သက္ကာကို၊ တနှစ်တနှစ်
လျှင်မှိန်းချက်သော အချိန်တို့၌၊ အဆွေအမျိုးအ
လိုက်၊ ငါတို့ဘုရားသခင်၏အိမ်တော်သို့ဆောင်
ခဲ့ရမည်အကြောင်း၊ ယဇ်ပရောဟိတ်၊ လေဝိ
သားပြည်သူပြည်သားတို့သည် စာရေးတံပြုကြ
၃၅ ၏။-အဦးသီးသောမြေအသီးအနှံနှင့်၊ အဦးသီး
သောသစ်သီးအမျိုးမျိုးကို ဗိမာန်တော်သို့နှစ်
၃၆ တိုင်းဆောင်ခဲ့ရမည်အကြောင်း၊-ပညတ်ကျမ်း
စာ၌ ရေးထား သည် အတိုင်း၊ အဦးဖွားသော
သားယောက်ျားနှင့်၊ အဦးဖွားသောသိုးနွားအ
စရှိသည်တို့ကို၊ ဗိမာန်တော်၌အမှုစောင့်သော
ယဇ် ပရော ဟိတ် တို့ရှိရာ၊ ဗိမာန် တော်သို့
၃၇ ဆောင်ခဲ့ရမည်အကြောင်း၊-အဦးလုပ်သောမုန့်
စိမ်း၊ ပူဇော်သက္ကာ၊ သစ်သီးအမျိုးမျိုး၊ စပျစ်
ရည်၊ ဆီကို ယဇ် ပရောဟိတ် တို့ ရှိရာ ဗိမာန်
တော်အခန်းသို့၎င်း၊ ထယ်လုပ်သော မြို့ရွာရှိသ
မျှတို့၌၊ မြေ အသီး အနှံ ဆယ်ဘို့ တဘို့ ကို လေဝိ
သားတို့ထံသို့၎င်း၊ ဆောင်ခဲ့ရမည်အကြောင်း၊ စီ
၃၈ ရင်ထုံးဖွဲ့ကြ၏။-လေဝိသားတို့သည်ဆယ်ဘို့တ
ဘို့ကိုခံယူသောအခါ၊ အာရုန်အမျိုး ယဇ်ပရော
ဟိတ်ရှိရမည်။ လေဝိသားတို့သည်လည်း၊ ဆယ်
ဘို့တဘို့ထဲက၊ ဆယ်ဘို့တဘို့ကိုနှုတ်ယူ၍၊ ဗိမာန်
တော် အခန်း၊ ဘဏ္ဍာ တိုက် ထဲ သို့ သွင်း ရ ကြ
၃၉ မည်။- လေဝိသားအစရှိသောဣသရေလအမျိုး
သားတို့သည်ဆန်စပါး၊ စပျစ်ရည်၊ ဆီပူဇော်သ
က္ကာတို့ကိုသန့်ရှင်းရာ ဌာနတော်ထန်းထား၊ အမှု
စောင့် ယဇ်ပရောဟိတ်၊ တံခါးစောင့်၊ သီချင်း
သည်တို့ရှိရာအခန်းသို့ဆောင်ခဲ့ရကြမည်။ ငါတို့
ဘုရားသခင်၏ အိမ်တော်ကို ငါတို့သည် စွန့်ပစ်
၍မထားရကြ။

၁၁

၁ ထိုအခါ လူများတို့တွင်၊ မင်းထုပ်သောလူတို့
သည် ယေရုရှလင်မြို့၌နေကြ၏။ ကြွင်းသောလူ
တို့သည်သန့်ရှင်းသောအရပ်၊ ယေရုရှလင်မြို့၌
တကျိပ်တွင် တယောက်၊ အခြားသော မြို့တို့၌
ကိုးယောက်နေရမည်အကြောင်း၊ စာရေးတံပြု
၂ ကြ၏။-ယေရုရှလင်မြို့၌နေခြင်းငှါ၊ အလိုလိုဝန်
ခံသော လူ အပေါင်း တို့ ကို၊ လူ များ တို့ သည်
၃ ကောင်းကြီးပေးကြ၏။- ထုံ မြို့ရွာတို့တွင် ဣသ
ရေလလူ၊ ယဇ်ပရောဟိတ်၊ လေဝိသား၊ ဘုရား
ကျွန်၊ ရှောလမုန်၏ကျွန်အမျိုးသားအသီးအသီး
တို့သည်မိမိတို့ဆိုင်ရာအရပ်၌ နေကြ၏။ ယေရု
ရှလင်မြို့၌နေသော ပြည်သူပြည်သားအကြီးအ
၄ ကဲ၊ မင်းအရာရှိဟူမူကား၊-ယုဒအမျိုး၊ မာရှတ်၊
မဟာလေလ၊ ရှေဖတိ၊ အာမရိ၊ ဇာခရိ၊ ဩဇိတို့
၅ မှဆင်းသက်သော အသာယတပါး၊- ရှိလောနိ၊
ဇာခရိ၊ ယောယရိပ်၊ အဒါယ၊ ဟဇာယ၊ ကော
လဟောဇ၊ ဗာရုတ်တို့မှဆင်းသက်သောမာသေ
၆ ထတပါးနှင့်တကွ-ယေရုရှလင်မြို့၌နေသောဖာ
ရက်အမျိုးသား၊ သူရဲလေးရာခြောက်ဆယ်ရှစ်
၇ ယောက်တည်း။- ဗင်္ယာမိန် အမျိုး၊ ယောဧဒ၊
ပေဒါယ၊ ကောလာယ၊ မာသေယ၊ ဣသေလ၊ ယေရှာယ၊
ယောဧ၊ မေရှုလံတို့မှ ဆင်းသက်သော သလ္လု၊-
၈ သူ့နောက်၊ ဂဗ္ဗဲနှင့်သလ္လဲအစရှိသော ကိုးရာနှစ်
၉ ဆယ်ရှစ်ယောက်တည်း။- ဇိခရိသားယောလ
သည်ဗင်္ယာမိန် အမျိုးအုပ်ဖြစ်၏။ ဟေနုသား
ယုဒသည်မြို့ပြင်ကိုအုပ်ရ၏။
၁၀ ယဇ်ပရောဟိတ်မူကား ယောရိပ်၏သား ယဒါယ
၁၁ ရိပ်၊ ယာခိန်နှင့်တကွ- အဟိတုပ်၊ မရာယုတ်၊
ဇာဒုတ်၊ မေရှုလံ၊ ဟိလကိတို့မှဆင်းသက်သော
ဘုရား သခင် ၏ အိမ် တော် အုပ် စရာလ အစရှိ
၁၂ သော၊- အိမ်တော်အမှုကို ဆောင်ရွက်သောအ
မျိုးသားချင်း ရှစ်ရာနှစ်ဆယ်နှစ်ယောက်တည်း။
ထိုမှတပါး၊ မာလခိ၊ ဇေခရိ၊ အာမဇိ၊ ပေ
လလိ၊ ယေရောဟံတို့မှဆင်းသက်သောအဒါယ
၁၃ အစရှိသော- အဆွေ အမျိုး သူကြီး၊ အမျိုးသား
ချင်းနှစ်ရာလေးဆယ်နှစ်ယောက်တည်း။ အာမ
ရ၊ မေရှိလမုတ်၊ အဟာဇဲ၊ အာဇရေလ တို့မှ
၁၄ ဆင်းသက်သောအာမရှဲအစရှိသော၊- ခွန်အား
ကြီးသော သူရဲ အမျိုးသားချင်း တရာ နှစ်ဆယ်

ယာဇ်ပုရောဟိတ်တို့ကိုဖွင်၊ မှတ်သားသောစာ
၂၃ ရင်း၌ရှိ၏။- လေဝိအမျိုးသား ယောဟနန် လက်
ထက်တိုင်အောင်၊ လေဝိသား အဆွေ အမျိုးသူ
ကြီးတို့ကိုစာရင်းယူ၍၊ ရာဇဝင်မှတ်စာ၌ သွင်း
၂၄ သတည်း။-လေဝိသားအကြီးအကဲ၊ ဟာရှဘိ၊
ရှေရဘိ၊ကပ်မျေလသားယောရှုတို့သည်ညီအစ်
ကိုများနှင့် ပိုင်း၍၊ ဘုရားသခင်၏လူ ဒါဝိဒ် စီရင်
သည်အတိုင်း၊ ဂုဏ်ကျေးဇူးတော်ကိုဖော်ပြချီး
မွမ်းခြင်းအမှုကို အလှည့်လှည့် စောင့်ရကြ၏။-
၂၅ မဿနိ၊ဗာကဗုကိ၊ဩဗဒိ၊မေရှုလံ၊တာလမုန်၊
အက္ကုပ်တို့သည်လည်းတံခါးဝနားမှာစောင့်ရ
၂၆ သောဘဏ္ဍာတိုက်ကိုစောင့်ကြ၏။-ထိုသူတို့သည်ယော
ဇဒက် သား ယောရှု၏သား ယောယကိမ် လက်
ထက်၊ မြို့ဝန်နေဟမိ လက်ထက်၊ ကျမ်းတတ်
ယာဇ်ပုရောဟိတ်ဧဇရလက်ထက်၌ရှိကြ၏။
၂၇ ယေရုရှလင် မြို့ရိုးကို အနုမောဒနာ ပြု သော
အခါ၊ စွက်ကွင်း၊ စောင်း၊ တယောနှင့်တီးမှုတ်
လျက်၊သီချင်းဆိုလျက်၊ဝမ်းမြောက်ခြင်း၊ကျေး
ဇူးတော်ကိုချီးမွမ်း ခြင်းနှင့်တကွ၊ အနုမောဒနာ
ပြုအံ့သောငှါ၊ လေဝိ သား တို့ကို ရှာ၍၊ သူတို့
နေရာအရပ်ရပ်တို့ကယေရုရှလင် မြို့သို့ခေါ်ကြ
၂၈ ၏။- ဓမ္မသီချင်းကိုဆိုတတ်သော အမျိုးသားတို့
၂၉ သည်၊ ယေရုရှလင်မြို့ ပတ်ဝန်းကျင်ရွာတို့၌ နေ
ရာကျလျက်ရှိ၍၊ ယေရုရှလင်မြို့ပတ်ဝန်းကျင်၊
လွင်ပြင်အရပ်များ၊ နေတောဖာသိရွာများ၊ဂိလ
ဂါလမြို့နယ်၊ဂေဗနှင့်အာဇမာဝက်ကျေးလက်
၃၀ ထဲကလာ၍စည်းဝေးကြ၏။- ယာဇ်ပုရောဟိတ်
နှင့်လေဝိသား တို့သည်လည်း၊ ကိုယ်ကိုဖွင် လူ
များ၊မြို့တံခါး၊ မြို့ရိုးကိုဖွင်စင်ကြယ်စေကြ၏။-
၃၁ ထိုအခါ ယုဒမင်းတို့ကို မြို့ရိုးပေါ်သို့ ငါခေါ်၍၊
ချီးမွမ်းရာ သီချင်း ဆိုရ သော လူစုကြီး နှစ် စုကို
ခန့် ထား ၏။ တစု ကား၊ လက်ျာ ရစ် လှည့် ၍
နောက်ချေး တံခါးသို့မြို့ရိုး ပေါ်မှာ ရှောက်သွား
၃၂ ကြ၏။-သူတို့နောက်မှာဟောရှာယနှင့်ယုဒမင်း
၃၃၊၃၄ တဝက်၊- အာဇရိ၊ ဧဇရ၊ မေရှုလံ၊- ယုဒ၊
၃၅ ဗယာမိန်၊ ရှေမာယ၊ ယေရမိ၊- တံပိုးကိုင်သော
ယာဇ်ပုရောဟိတ် အမျိုးသား အချို့၊ အာသပ်၊
ဇက္ကုရ၊ မိက္ခာယ၊ မဿနိ၊ ရှေမာယ၊ ယောနa
ထန်တို့မှ ဆင်းသက်သောဇာခရိ အစရှိသော၊-
၃၆ သူ၏ညီရှေမာယ၊အာဇရေလ၊မိလလဲ၊ ဂိလလဲ၊
မာဣ၊နာသနေလ၊ ယုဒ၊ ဟာနနိတို့သည်ဘုရား
သခင်၏လူ ဒါဝိဒ်၏ တူရိယာ မျိုးကို ကိုင် လျက်

လိုက်ကြ၏။ ကျမ်းတတ်ဆရာဧဇရသည်သူတို့
၃၇ ရှေ့မှာ သွား၏။- သူတို့တဖက် တချက်၌ ရှိသော
စမ်းရေတွင်းတံခါးသို့ရောက်မှမြို့ရိုးတက်ရာ၊ ဒါ
ဝိဒ်မြို့လှေကားဖြင့် တက်၍၊ ဒါဝိဒ်အိမ်တော်အ
ထက်၊ အရှေ့ မျက်နှာ၌ ရေတံခါး တိုင်အောင်
၃၈ သွား ကြ၏။- သီချင်း သည် တစုကား၊ လက်ဝဲ
ဘက်သို့လှည့်၍၊ ငါနှင့်တဝက်သော လူများတို့
သည် မြို့ရိုးပေါ်၊ မီးဖိုပြအိုးမှ ကျယ်သော မြို့ရိုး
၃၉ တိုင်အောင်လိုက်ကြ၏။-ဧဖရိမ်တံခါး၊ဟောင်း
သောတံခါး၊ ငါးတံခါး၊ ဟာနနေလပြအိုး၊ မေ
အာ ပြအိုးအထက်မှစ၍ သိုးတံခါးတိုင်အောင်
လိုက်သဖြင့်၊ ထောင်တံခါးဝတွင်ရပ်နေကြ၏။-
၄၀ တဖန်သီချင်းသည်နှစ်စုသည်ဘုရားသခင်အိမ်
တော် တွင် ရပ်၍၊ တဝက်သော မင်း အရာရှိ တို့
၄၁ သည်ငါနှင့်အတူ၊- တံပိုးကိုင်သော ယာဇ်ပုရော
ဟိတ် ဧလျာကိမ်၊ မာသေယ၊ မိညာမိန်၊ မိက္ခာ
၄၂ ယ၊ဧလိဩနဲ၊ဇာခရိ၊ဟာနနိ နှင့်တကွ- မာသေ
ယ၊ရှေမာယ၊ ဧလာဇာ၊ဩဇိ၊ ယောဟနန်၊မာ
လခိယ၊ ဧလံ၊ ဧဇာတို့ သည် ရှိကြ၏။ သီချင်း
သည်တို့သည် ဆရာယေဇရာဟိနှင့် တကွအသံ
၄၃ ကိုလွှင့်၍ဆိုကြ၏။- ထိုနေ့၌ များစွာသောယဇ်
တို့ကိုပူဇော်ကြ၏။ အလွန်ဝမ်းမြောက်သောအ
ခွင့်ကို ဘုရားသခင် ပေးတော် မူသောကြောင့်၊
သားမယားနှင့်တကွ ဝမ်းမြောက်ခြင်းကိုပြု၍၊
ယေရုရှလင်မြို့ဝမ်းမြောက်သံကို ဝေးသောအ
ရပ်၌ကြားရကြ၏။
၄၄ ထိုအခါ ယာဇ်ပုရော ဟိတ်နှင့် လေဝိသား တို့
သည်အမှုတော်ကိုစောင့်လျက်နေသောကြောင့်၊
ယုဒအမျိုးသားတို့သည် အားရဝမ်းမြောက်ကြ
သည်ဖြစ်၍၊ ယာဇ် ပုရောဟိတ်နှင့် လေဝိသားခံ
အပ်သောပူဇော်သကာ၊ အဦးသီးသောအသီး၊
ဆယ်ဖို့တဖို့ကိုမြို့နယ်ကျေးလက်ထဲကသိမ်းယူ
၍၊ သို ထား စရာ ဘဏ္ဍာ တိုက် များ ကို အုပ် ရ
၄၅ သော တိုက် မှူးတို့ကို ခန့်ထားကြ၏။- သီချင်း
သည်နှင့်တံခါးစောင့်တို့သည်လည်း၊ဒါဝိဒ်နှင့်
သားတော်ရှောလမုန် စီရင်သည်အတိုင်း၊သူတို့
ဘုရား သခင် အမှု နှင့် စင် ကြယ် ခြင်း အမှုကို
၄၆ စောင့်ရှောက်လျက်နေကြ၏။-ရှေးကာလ၊ဒါဝိဒ်
နှင့်အာသပ်လက်ထက်၌၊ ဘုရားသခင်၏ဂုဏ်
ကျေးဇူးတော်ချီးမွမ်းရာသီးချင်းကို ဆိုရသော
၄၇ သူအကြီးအကဲရှိကြ၏။-ဇေရုဗဗေလနှင့်နေဟ
မိလက်ထက်၌ လည်း၊ ဣသရေလ လူအပေါင်း

ဖို့အည်၊ ရေ့ရတ်အစည်အထိုင်းဘီခြင်းထည်၊ ထံခါးအောင့် ခံအပ်သော ဘေးစရာ မိကျွာကို ၎င်း၊ လေဝိသား ထို့အား ထန့်ရှင်းသော အရာတို့ကို ၎င်းလှူကြ၏၊ လေဝိသား၊ တို့ထည်ထည်။ ထမ်ပရောဟိတ်ထို့အားလှူကြ၏၊

၁၈

၁ ထိုရေ့ရတ်ကာထ၌မောရှေ၏ပညတ္တိကျမ်းစာကိုလူရှားရွှေ့မှာခတ်ဂွတ်သောအခါ၊ အဒ္ဒုန်အမျိုးသားနှင့် မောဘအမျိုးသားသည် ဘုရားသခင်၏ပရိထတ်တော်ထဲသို့ ဝင်ရသောအခွင့်အစည်မရှိထုတ္တွကြ၏၊- အကြောင်းမူကား၊ သူတို့သည် ဒုသရေထ အမျိုးသားတို့ကို ထုစ်ကျွေးခြင်းငှါ မကြိုဆို၊ ကျိန်ဆဲစေခြင်းငှါဗာလံကိုငှါးကြ၏၊သို့ရာတွင်၊ ငါတို့၏ဘုရားသခင်သည်ကျိန်ဆဲသောစကားကို ကောင်းကြီး ပေးသော စကား
၂ ဖြစ်စေတော်မူ၏၊-ထိုတရားကိုကြားသောအခါ၊ အမျိုးမစစ်သောသူရှိသမျှတို့ကို ဒုသရေထအမျိုးမှပယ်ရှားကြ၏၊
၃ အရင်တခါ ငါတို့ဘုရား သခင်၏ အိမ်တော်ဖြစ်ခန်းကို အုပ်သော ထမ်ပရောဟိတ် ဧလျာရှိပ်သည်တောဘိနှင့်ပေါက်ဖော်တော်သည်ဖြစ်
၄ ၍- တောဗည်ပူဇော်သကာ၊နံ့ထာပေါင်း။ထန်ဆာမျိုးကို၎င်း၊ပညတ်တော်အထိုင်းလေဝိသားဘီခြင်းသည်၊ တံခါးစောင့်ထို့အား ပေးရသောဆန်စပါး။ စပျစ်ရည်၊ ဆီ ဆယ် ပို တဖို့ကို ၎င်း၊ ထမ်ပရောဟိတ်ထို့အား လှူရသော အလှူထို့ကို ၎င်း၊ထိုထားမြို့ရှိသောအခန်းကြီးကိုတောဘိအ
၅ မှိုက္ခင်ဆင်၏၊- ထိုကာထပတ်ထုံးငါသည်ယေရုရှလင်မြို့၌ မရှိ၊ ဗာဗုလုန် ရှင် ဘုရင် အာတာဇေရဇ်နန်းစံ သုံးဆယ် နှစ်နှစ်တွင် အထံ တော်သို့ သွားရ၏၊ အင်တန် ကာလကြာပြီးမှ၊ ရှင်ဘုရင်
၆ ထံတော်၌အခွင့်ရ၍- ယေရုရှလင်မြို့သို့ရောက်သောအခါ၊ ဧလျာရှိပ်သည်ဘုရားသခင်၏အိမ်တော် တန်တိုင်းထဲမှာ အခန်းကို တောဘိ အဖို့ ရွှင်ဆင်၍၊ ဒုစရိုက်ပြုကြောင်းကို ငါကြားသိရ
၇ ၏၊- ထိုအခါငါသည် အလွန်နာကြင်သောစိတ်ရှိ၍၊ တောဘိဥစ္စာပရိဘောဂရှိသမျှကိုအခန်းထဲက
၈ ထုတ် ပြစ်ပြီးမှ- အခန်း ရှားကို စင်ကြယ် စေခြင်းငှါမိရင်၍၊ ထခန်ဘုရားသခင်၏အိမ်တော်တန်ဆာ ရှား၊ တောဗည်ပူဇော်ထကာ၊ နံ့ထာပေါင်းကိုဆောင်ခဲ့၍ထိုထား၏၊
၉ အမှုတော်စောင့်၊လေဝိထား။ထိခြင်းထည်ထို့ထည်အထီးအထီး မိမိထို့ထယ်ထာသို့ပြေးသွားကြသည်ကိုငါသိတ်၍၊ထုထို့ခံအပ်သောဘေးစရာမိကျွာကိုမခံမရကြောင်းကိုငါရိပ်မိလျှက်-
၁၁ ဘုရားသခင်၏အိမ်တော်ကိုအဘယ်ကြောင့်စွန့်ပြစ်ကြသနည်းဟု၊မင်းတို့ကိုအပြစ်တင်၍၊လေဝိထားတို့ကိုစုဝေးစေပြီးမှ၊သူတို့နေရာ၌ခန့်ထား
၁၂ ပြန်၏၊- ထိုအခါယုဒလူအပေါင်းတို့သည်ဆန်စပါး၊ စပျစ်ရည်၊ ဆီထယ်ပို့တဖို့ကိုဘဏ္ဍာတော်
၁၃ တိုက်ထို့ ဆောင်ခဲ့ပြန်ကြ၏၊- ထမ်ပရောဟိတ်ရှေလမိ၊ ကျမ်းတတ်ဇာဒုတ်၊ လေဝိထားပေဒါထ၊ ထုနောက်မထာနိထားဖြစ်သော ဇက္ကုရ၏ထားဟာနန်တို့ကို၊ ဘဏ္ဍာတော်တိုက်မှူးအရာ၌ငါခန့်ထား၏၊ ထိုသူတို့သည် ထစ္စာစောင့် ခြင်းအထေရှိသည်ဖြစ်၍၊ အမျိုးသားချင်းထို့အား
၁၄ ဝေခန် ရကြ၏၊- ဖို အကျွန်ုပ်၏ ဘုရား သခင်၊ ထိုအမှုကြောင့် အကျွန်ုပ်ကို အောင်းမေ့တော်မူပါ၊ အကျွန်ုပ်၏ ဘုရား သခင် အိမ် တော် အ ဖို့၊ အိမ်တော်အမှုစောင့်ခြင်းအဖို့အကျွန်ုပ်ပြုသော ကျေးဇူးကိုချေတော်မမူပါနှင့်၊

၁၅ ထိုကာထ၊ ထုဒပြည်မှာအချို့ထို့သည်ဥပုသ်ရေ့၌ စပျစ် သီးကို နယ်လျှက်၊ ကောက် လှိုင်းကို သွင်း လျှက်၊ မြည်းပေါ်မှာ ဝန် ကို တင်လျှက် ထုပ်ဆောင်ကြသည်ကို၎င်း၊ ဥပုသ်ရေ့၌စပျစ်ရည်၊စပျစ်သီး၊ သင်္ဘောသဖန်းသီး၊ အစရှိသည့် ထို့ကို ထင်၍၊ ယေရုရှလင်မြို့သို့ ဆောင်ခဲ့ကြသည်ကို ၎င်းငါမြင်၍၊ ဤမည်သော ရေ့ရတ်၌ထား စားစရာရှားကိုရောင်းအပ်သည်ဟု သူတို့အားကြား
၁၆ ပြော၏၊- ထိုအရပ် ၌ နေ သော တုရု မြို့သား ထို့ထည်ထည်း၊ငါးအစရှိသည်ထို့ကိုယေရုရှလင်မြို့သို့ဆောင်ခဲ့၍၊ ဥပုသ်ရေ့၌ထုဒအမျိုးသားထို့
၁၇ အားရောင်းတတ်ကြ၏၊- ထိုအခါငါက၊သင်ထို့သည် ဥပုသ်ရေ့ကိုဖျက်၍ပြုသော ဒုစရိုက်ကား
၁၈ အဘယ်သို့နည်း၊- ထိုးထေးတို့ထည် ထိုသို့ပြုသောကြောင့်၊ ဤမျှသောကြီးစွာသောဆင်းရဲခြင်းကို ငါတို့၌၎င်း၊ ဤမြို့၌၎င်းဘုရားသခင် ရောက် စေတော် မူသည် မဟုတ်လော၊ သင်ထို့ သည်ဥပုသ်ရေ့ကို ဖျက်သောအားဖြင့်၊ သာ၍ ပြင်းစွာသောအမျက်တော်ကိုဒုသရေထအမျိုး၌ရောက်စေဦးမည် လောဟု၊ ထုဒမှူးမတ်ထို့ကို
၁၉ အပြစ်တင်လျှက်-ထမိတ်ရေ့တွင်နေရောင်ကွယ်၍၊ဥပုသ်ရေ့လွန်သည်ထိုင်အောင်၊ယေရုရှလင်မြို့တံခါးထို့ကိုပိတ်ထားရမည်အကြောင်းမိန့်

၍၊ ဥပုသ်နေ့၌ ဝန်များကို မြဲဆဲသို့ မထမ်းစေ
ခြင်းငှါ၊ မိမိကျွန်အချို့တို့ကိုတံခါးတို့၌ခန့်ထား
၂၀ ၏။– ထိုနောက်၊ ကုန်သည်များ၊ ဥစ္စာမျိုးကိုရောင်း
သောသူများတို့သည်၊ ယေရုရှလင် မြို့ပြင်မှာ တ
၂၁ ခါနှစ်ခါအိပ်ကြ၏။– ငါကလည်း၊ မြို့ရိုးပတ်
လည်၌ အဘယ် ကြောင့် အိပ်ကြသနည်း၊
နောက်တဖန်လာ၍ အိပ်လျှင် ဖမ်းဆီးမည်ဟု၊
သူတို့အားသတိပေး၏၊ ထိုအခါမှစ၍ဥပုသ်နေ့
၂၂ တွင် မလာကြ၏။– လေဝိသားတို့ သည်
လည်း၊ ဥပုသ်နေ့ကို သန့်ရှင်းစေခြင်းငှါ၊ စင်
ကြယ်သော ကိုယ်နှင့် လာ၍၊ တံခါးတို့ကို
စောင့်ရမည် အကြောင်း၊ ငါမှာထား၏၊ ထိုအ
ကျွန်ုပ်၏ ဘုရားသခင်၊ ထိုအမှုကြောင့် အ
ကျွန်ုပ်ကိုအောက်မေ့တော်မူပါ၊ ကရုဏာတော်
များပြားသည်အတိုင်း၊ အကျွန်ုပ်ကို ကယ်မသ
နားတော်မူပါ။

၂၃ ထိုကာလ၊ အာဇုတ်အမျိုး၊ အမ္မုန်အမျိုး၊ မောအ
ဘအမျိုးသမီးတို့နှင့် စုံဖက်သော ယုဒလူအချို့တို့ကို
၂၄ ငါမြင်၏။–သူတို့သားသမီးတို့သည်ယုဒစကားကို
မပြောတတ်၊ အာဇုတ်စကား တဝက် အခြား
သောအသီးအသီးသောသာသာစကားကိုပြောတတ်
၂၅ ကြ၏။– သူတို့ကိုငါအပြစ်တင်၍ ကျိန်ဆို၏၊ အချို့
တို့ကိုရိုက်လျက်၊ ဆံပင်နှုတ်လျက် ဘုရားသခင်ကို
ကျိန်ဆိုစေ၍၊ သင်တို့သည် ကိုယ်သမီးတို့ကို ပြည်သားတို့အား
မပေးစားရ၊ ပြည်သားသမီးတို့ ကိုကိုယ်သားတို့
၂၆ အမှီစသိမ်းမယူရ။– ဣသရေလ ရှင်ဘုရင်ရှော
လမုန်သည်ထိုသို့ပြု၍ပြစ်မှားရောက်သည်မ
ဟုတ်သလော၊ အတိုင်းတိုင်းအပြည်ပြည်၌ သူနှင့်
တူသော ရှင်ဘုရင်မရှိ၊ ဣသရေလ ရှင်ဘုရင်အ
ရာ၌ ဘုရားသခင် ခန့်ထားသည် ဖြစ်၍ အောင်၊
မိတ်တော်နှင့် တွေ့သောသူ ဖြစ်သော်လည်း၊ တ
ပါးအမျိုးသားမိန်းမတို့သည် ပြစ်မှား စေသည်တ
၂၇ ကား၊– ငါတို့သည်သင်တို့စကားကိုနားထောင်
၍၊ တပါးအမျိုးသားမိန်းမတို့နှင့် စုံဖက်သဖြင့်၊ ဤ
မျှလောက်ကြီးသော ဒုစရိုက်ကိုပြုလျက်၊ ငါတို့
၏ဘုရားသခင်ကိုပြစ်မှားရမည်လောဟု၊ ဘုရား
သခင်ကို တိုင်တည်၍ သူတို့ကိုကျိန်ဆို ခဲ့၏။–
၂၈ ယဇ်ပုရောဟိတ်မင်း ဧလျာရှိပ်သားယောယ
ဒ၏သား တယောက်သည်၊ ဟောရနိလူ သမ္ဗာ
လတ်သမက်ဖြစ်သောကြောင့်၊ သူ့ကိုငါနှင်ထုတ်
၂၉ ၏။– အိုအကျွန်ုပ်၏ ဘုရားသခင်၊ သူတို့ သည်
ယဇ်ပုရောဟိတ်အရာကိုရှင်၊ ယဇ်ပုရောဟိတ်၊
လေဝိသားတို့နှင့်ဖွဲ့သော ပဋိညာဉ်တော်ကိုရှင်
၃၀ ညစ်စေသောကြောင့်၊ သူတို့ကိုမှတ်တော်မူပါ။ ထို
သို့ လူအ အမျိုးသားတို့ကို တပါး အမျိုးသား အ
ပေါင်းတို့နှင့်ကင်းစင်စေပြီးမှ၊ ယဇ်ပုရောဟိတ်
နှင့် လေဝိသား တို့ကို အသီးအသီး မိမိတို့အမှု
၃၁ စောင့်ရသည်အတိုင်း ငါခန့်ထား၍– မှိန်းချိန်
သောအမှိန်၌၊ ထင်းပူဇော်သကာနှင့် အဦးသီး
သော အသီးကို ပူဇော်စေခြင်းငှါ စီရင်၏၊ အိုအ
ကျွန်ုပ်၏ ဘုရားသခင်၊ ကျေးဇူးပြုပါမည် အ
ကြောင်း၊ အကျွန်ုပ်ကိုအောက်မေ့တော်မူပါ။

နေဟမိဝတ္ထုပြီး၏။

# ဧသတာဝတ္ထု။

## BOOK OF ESTHER.

၁

၁ အိန္ဒိယပြည်မှစ၍ ကုရှုပြည် တိုင်အောင်၊
တိုင်းပြည် တရာနှစ်ဆယ် ခုနစ်ပြည်တို့ကို၊ အ
၂ စိုးရသော ရှင်ဘုရင် အာရွှေရုသည်– ရှုရှန်နန်း
တော်ရာဇပလ္လင်ပေါ်မှာ ထိုင်၍ နန်းစံ သုံးနှစ်
၃ တွင်–ပေရသိမိုလ်၊ မေဒိမိုလ်များ၊ အပြည်ပြည်
သောမှူးမတ်ဝန်မင်းများတို့ကိုခေါ်၍၊ မှူးတော်
မတ်တော် ကျွန်တော် အပေါင်းတို့အဖို့ ပွဲလုပ်
၄ တော်မူ၏။– ထိုအခါ နိုင်ငံတော်စည်းစိမ်၊ ဘုန်း
အာနုဘော်တော်ကို အရက်တရာရှစ်ဆယ်ပတ်

၅ ထိုးပြီးတော်မူ၏။-ထိုကာလလွန်ပြီးမှ၊ ရှင်ဘုရင်
သည်ရှုရှန်နန်းတော်၌စည်းဝေးသောသူအကြီး
အငယ်အပေါင်းတို့အဖို့နန်းတော်အနား၊ ဥယျာဉ်
တော် ဝင်းထဲမှာ ခုနစ်ရက် ပတ်လုံး ပွဲခံတော်မူ
၆ ၏။- ငွေကွင်း တပ်သော ကျောက်ဖြူ တိုင်တို့၌၊
မောင်းသောပိတ်ချောကြိုးဖြင့် ဆွဲကာသောပိတ်
ချောကုလားကာ ဖြူ၊ အစိမ်း၊ အပြာတို့နှင့်ရှင်း၊
ခင်းသောကျောက်ပြား၊ အနီ အပြာ အဖြူ အနက်
တို့အပေါ်မှာ ထားသော ရွှေ ငွေ အနေ အထိုင်တို့
၇ နှင့်ရှင်း၊ ဥဘည်တော်သည်ပြည့်စုံ၏။- ရှင်ဘုရင်
စည်းစိမ်နှင့်လျော်စွာ ထူးခြားသော ရွှေဝတ္ထု
တို့နှင့်များစွာသော စပျစ်ရည်ကိုသောက်ကြ၏။-
၈ စပျစ်ရည်သောက်ခြင်းအမှုသည် တရားအတိုင်း
ဖြစ်၏၊ အဘယ်သူကိုမျှ အနိုင်မသောက်စေ၊ လူ
အပေါင်းတို့သည် ကိုယ်အလို အလျောက်ပြုပြ
မည်အကြောင်း၊ နန်းတော်အရာရှိ အပေါင်းတို့
၉ ကိုရှင်ဘုရင်မိန့်တော်မူ၏။- မိဖုရားဝါရှတိသည်
လည်း၊ ရှင်ဘုရင် အာရှုရုနန်းတော်သားမိန္မတို့
အဖို့ပွဲလုပ်လေ၏။
၁၀ မိဖုရားဝါရှတိသည် အဆင်းလှသောကြောင့်၊
၁၁ ခုနစ်ရက် မြောက်သောနေ့၌၊ ရှင်ဘုရင် သည်
စပျစ်ရည်သောက်၍ ရွှင်လန်းသောစိတ်ရှိ သော
အခါ၊ မိဖုရား အဆင်းလှခြင်း အသရေကို မင်း
များနှင့်လူများတို့အားပြလိုသော်၊ မိဖုရားဝါ
ရှတိကိုရာဇသရဖူဆောင်းစေ၍၊ အထံတော်သို့
ဆောင်ခဲ့ရမည် အကြောင်း၊ မဟုမန်၊ ဗိဇသ၊
ဟာဗောန၊ ဗိဂသ၊ အဗာဂထ၊ ဇေသာ၊ ကာ
ကတ်ထည်း ဟူသောအမှုတော်ထမ်း၊ မိန္မမိုးခု
၁၂ နစ်ယောက်တို့ကိုမိန့်တော်မူ၏။- သို့ရာတွင်၊ မိန္မ
မိုးဆင့် ဆိုသော အမိန့်တော်ကို၊ မိဖုရား သည်၊
ငြင်းဆန်၍မလာဘဲနေ၏၊ ထိုကြောင့် ရှင်ဘုရင်
သည် အမျက် ထွက်၍၊ ဒေါသမီး လောင်လျက်
နေတော်မူ၏။
၁၃ ထိုအခါကာလရှေးဇရှသာ၊ အာဒမာထ၊ တာရှိ
၁၄ ရှ၊ မေရက်၊ မာသေန၊ မမုကန်တည်းဟူသော၊ ရှင်
ဘုရင်၏ မျက်နှာတော်ကို အစည်ဖူးမြင်ရ၍၊ နိုင်ငံ
တော-သွင် အမြတ်ဆုံးသော ပေရသိ၊ မေဒိအ
တွင်းဝန်မင်းခုနစ်ပါးတို့သည် အနားတော်၌ထိုင်
လျက်ရှိ၍၊ တရား စီရင်ရာ ထုံးကို ထွေကျွက်
သော သူ အပေါင်း တို့နှင့်၊ ရှင် ဘုရင် တိုင်ပင်
သောထုံးစံရှိသည်အတိုင်း၊ အကျိုးအကြောင်း
၁၅ ကိုနားလည်သောထိုပညာရှိတို့ကိုခေါ်၍-မိန္မမိုး
ဆင့်ဆိုသော ငါရှင်ဘုရင် အာရှုရုအမိန့်တော်
ကို၊ မိဖုရား ဝါရှတိ သည် နားမထောင် သော
ကြောင့်၊ ဓမ္မသတ်အတိုင်းသူ၌အဘယ်သို့စီရင်
၁၆ ရမည်နည်းဟု မေးတော်မူလျှင်- မမုကန်က၊ မိ
ဖုရားဝါရှတိသည် ရှင်မင်းကြီးကိုသာပြစ်မှား
သည်မဟုတ်ပါ၊ ရှင်မင်းကြီးအာရှုရု အစိုးရ
တော်မူသောတိုင်းပြည်အရပ်ရပ်၌ ရှိသောမင်း
များနှင့်ထင်းရှဲ သားများအပေါင်းတို့ကိုပြစ်မှား
၁၇ ပါပြီ။-ရှင်ဘုရင်အာရှုရုသည်မိဖုရားဝါရှတိကို
ခေါ်၍၊ မိဖုရားမလာဟု အနှံ့အပြားပြောကြသ
ဖြင့်၊ မိဖုရားပြုသော အမှုကိုခပ်သိမ်းသောမိန္မ
တို့သည်ကြား၍၊ မိမိတို့ခင်ပွန်းကိုမထီမဲ့မြင်ပြု
၁၈ ကြပါလိမ့်မည်။- မိဖုရားပြုသောအမှုကိုပေရ
သိ၊ မေဒိမင်းကတော်တို့သည်ကြား၍ကြလျှင်၊
မှူးတော် မတ်တော် အပေါင်း တို့ အား ထိုနည်း
တူဖြန့်ပြောသဖြင့်၊ အားမနာတတ်သော မိတ်
ဒေါသ မိတ်တိုးပွားစရာ အကြောင်း ရှိပါ လိမ့်
၁၉ မည်။-ဝါရှတိသည်ရှင်မင်းကြီးအာရှုရုထံ
တော်သို့ နောက် တဖန် မဝင်စေ ခြင်း ငှါ အလို
တော်ရှိလျှင်၊ မဝင်စေနှင့် ဟု မိန့်တော် မူပါ၊ စ
ပြောင်းထဲ နိုင်သော အမိန့်တော်ရှိစေခြင်းငှါလည်း
ရသိ၊မေဒိဓမ္မသတ်၌ သွင်း၍ ရေးစေတော်မူပါ၊
ဝါရှတိထက်ကောင်းသောမိန္မကိုလည်း၊ မိဖုရား
၂၀ အရာ၌ ချီးမြှောက် တော် မူပါ။- ထိုသို့ပြုလျှင်၊ ရှင်
ဘုရင် ပေးတော် မူသော အမိန့် တော်ကို၊ ကျယ်
ဝန်းသော နိုင်ငံ တော်တရှောက် လုံး ကျော်ညာ
သောအခါ၊ မိန္မအပေါင်းတို့သည် ကိုယ်ခင်ပွန်း
အယုတ်အမြတ်တို့ကို ရိုသေ ကြပါလိမ့်မည် ဟု
ရှင်ဘုရင်နှင့်မှူးမတ်တို့ရှေ့မှာလျှောက်ထား၏။-
၂၁ ထိုစကား ကို ရှင် ဘုရင်နှင့် မှူးမတ် တို့သည် နှစ်
သက် ၍ မမုကန် လျှောက် သည် အ တိုင်း ရှင်
၂၂ ဘုရင် ပြုလျှက်- လူတိုင်း မိမိအိမ်ကို အုပ်စိုးရ
မည် အကြောင်း၊ မိမိ လူ မျိုး စကား ကို ပြောရ
စည် အကြောင်း၊ အတိုင်း တိုင်း အပြည် ပြည်
ထသော စကား အသီးအသီးကို အနက်ပြန်၍၊
နိုင်ငံတော် အရပ်ရပ် တို့ အမိန့် တော် စာကို ပေး
ယိုက်တော်မူ၏။

၂

၁ ထိုနောက်ရှင်ဘုရင် အာရှုရုသည် မိတ်တော်ပြေ
သောအခါ၊ ဝါရှတိကိုရင်း၊ သူပြုသောအမှုနှင့်သူ
တဖက်၌စီရင်သောအမှုကိုရင်ဆောင်နေတော်
၂ မူ၏။- အထံတော်၌ ခစားသော လုလင် တို့က

သည်။ အဆင်းလှသော ထွီးကညာဆိုကိုရှင်
မင်းကြီးအဖို့ ရှာရပါမည် အကြောင်း။ အခွင့်
၃ ပေးတော်မူပါ။- အဆင်းလှသောထွီးကညာအ
ပေါင်းတို့ကိုရှုရှန် နန်းတော်တွင်၊ အပျိုတော်နေ
ရာသို့စုဝေးစေ၍၊ နန်းတော်မိန္မမိုး၊ အပျိုတော်
အုပ်ဟေဂဲ၌အပ်စေခြင်းငှါ၊ နိုင်ငံတော်အထိုင်း
ထိုင်း အပြည်ပြည် မင်းအရာရှိတို့ကို ခန့်ထား
တော်မူပါ။စင်ကြယ်စေခြင်းငှါ၊ ဆေးမျိုးကိုအပ်
၄ ပေး တော်မူ ပါ။- နှစ်သက် တော် မူသော ထွီး
ကညာကိုမိဖုရားဝါရှတိအရာ၌ ခန့်ထားတော်
မူပါဟု၊ လျှောက်သော စကားကို ရှင်ဘုရင်နှစ်
သက်၍ထိုသို့စီရင်တော်မူ၏။
၅ ထိုကာလထတွင်ရှုရှန်မြို့တော်၌၊ဗယာမိန်အမျိုး
သိရှ၊ ရှိမိ၊ ယာဣရတို့မှဆင်းသက်သော၊ မော်ဒ
၆ ကဲအမည်ရှိသောယုဒလူတယောက်ရှိ၏။-ထိုသူ
သည် ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာသိမ်း
သွားသော ယုဒရှင်ဘုရင် ယေခေါနိမှစ၍၊ ဖမ်း
ဆီး သိမ်းသွားခြင်းကို ခံရသော လူစု၌ ပါသ
၇ တည်း။-ထိုသူသည်ထွေးသွီးဟဒဿတည်း
ဟူသောဧသတာကိုမွေး၏။ထိုသတို့သွီးသည်
မိထမရှိ၊ ပုံပြင်ယည်ကျေး၍၊ အသွေးအဆင်း
သည်းလှ၏။ မိထသေသောအခါ၊မော်ဒကဲသည်
ယူ၍ကိုယ်သွီးကဲ့သို့မှတ်သတည်း။
၈ ရှင်ဘုရင်အမိန့်တော်ကိုထုတ်၍ ကျော်သော
အခါ၊ အပျိုများတို့ကိုရှုရှန်နန်းတော်သို့ စုဝေး
စေ၍၊ မိန္မမိုးဟေဂဲ၌ အပ်ရာတွင်၊ ဧသတာကို
လည်း နန်းတော်သို့ ခေါ်ဆောင်၍ ဟေဂဲ၌ အပ်
၉ ကြ၏။-ဧသတာသည်ဟေဂဲမိတ် နှင့်တွေ့၍မျက်
နှာရသဖြင့်၊ဟေဂဲသည်စင်ကြယ်စေသောဆေး
မျိုးနှင့် ပေးရ သော အဝတ် အစားကို အလျင်အ
မြန်ပေး၏။ နန်းတော်၌ရွေးကောက်သောကျွန်မ
ခုနှစ်ယောက်တို့ကိုလည်းပေး၍၊ဧသတာနှင့်သူ
၏ကျွန်မတို့ကို အပျိုတော်နန်းတွင်၊ အမြတ်ဆုံး
၁၀ သောနေရာ၌ရှိုးပြောင်းထား၏။- ဧသတာသည်
မိမိ အမျိုးနှင့် မိမိဆွေညာ တကာ ကို မဖော်မပြ
မည် အကြောင်း၊ မော်ဒကဲထတိ ပေး သည်အ
၁၁ တိုင်း၊ မဖော်မပြဘဲ နေ၏။- ဧသတာသည် အ
ဘယ်သို့ ရှိသည်ကိုရှင်၊ သူ၌အဘယ်သို့ ပြုကြ
သိမ့်မည်ကိုရှင်၊မော်ဒကဲသည်သိခြင်းငှါ၊အပျို
တော်နန်းဝင်းရှေ့မှာနေ့တိုင်းသွားလာ၏။
၁၂ ထို အပျို တော် တို့ ထုံးစံ အ တိုင်း၊ တနှစ်စေ့
သောအခါ တယောက်နောက် တယောက်၊ အ
ချည်း ထပ်ထည်အတိုင်။ ရှင်ဘုရင်ထံ အလှည့်ကျ
သို့ဝင်ရ၏။ မြောက်လပတ်လုံးမုရန်ဆီ၊ မြောက်
လပတ်လုံး နံ့သာမျိုးအစရှိသော၊ စင်ကြယ်စေ
သောဆေးမျိုးကိုသုံး၍၊ စင်ကြယ်ခြင်း အမှုပြု
သည်တိုင်အောင်၊ ထိုမျှကာလကို လွန်စေရ၏။-
၁၃ ထိုနောက်မှ၊ အပျို တော်သည် ရှင်ဘုရင် ထံသို့
ဝင်ရှိန် ရောက်သော အခါ၊ အလိုရှိသ မျှတို့ကို
တောင်း၍၊ အပျိုတော်နန်းမှရှင်ဘုရင်နန်းတော်
၁၄ သို့ယူသွားရ၏။- ညဦး အချိန်၌ ဝင်၍နံနက်အ
ချိန်၌နန်းတော်မိန္မမိုး၊ မောင်းမမိထိန်းအုပ်၊ ရှာရှ
ဂါဇစောင့်သောဒုတိယမိန္မနန်းသို့ပြန်ရ၏။ ရှင်
ဘုရင်ချစ်၍ နာမည်အားဖြင့် ခေါ်တော်မမူလျှင်၊
နောက်တဖန်အထံတော်သို့မဝင်ရ။
၁၅ မိမိသွီးကဲ့သို့ မော်ဒကဲမွေးမြူသော၊ ထွေး
အဘိဟဲလသွီး ဧသတာသည် အလှည့်အခွင့်ရှိ၍၊
ရှင်ဘုရင်ထံသို့ ဝင်ရသော အခါ၊ နန်းတော်မိန္မ
မိုး၊ အပျိုတော်အုပ်ဟေဂဲစီရင်သော အရာမှတပ
ပါး၊ အဘယ်အရာကိုမျှမတောင်း။ ဧသတာကို
တွေ့မြင်သမျှသော သူတို့သည် ချစ်တတ်ကြ၏။-
၁၆ ထိုသို့ ရှင်ဘုရင်အာရှုဝေရုသည် နန်းစံ ခုနစ်နှစ်၊
တေဗက်အမည်ရှိသောဒသမလတွင်၊ ဧသတာ
၁၇ ကို နန်း တော်၌ သိမ်း တော် မူပြီး လျှင်- အခြား
သော သွီး ကညာ အပေါင်း တို့ ထက်၊ ဧသတာ
သည်မိတ်တော်ကို နှုးညွတ်စေ၍၊ အထံတော်၌
မျက်နှာရသဖြင့်၊ ရှင်ဘုရင်သည် အခြားသော
မိန္မတကာတို့ကိုချစ်သည်ထက်၊ဧသတာကိုသာ
၍ချစ်သောကြောင့်၊သူခေါင်းပေါ်မှာရာဇသရဖူ
ကိုတင် ၍၊ မိဖုရား ဝါရှတိ အရာ၌ ချီးမြှောက်
၁၈ တော်မူ၏။- ထိုအခါရှင်ဘုရင်သည် ဧသတာပွဲ
ဟူ၍၊ ကြီးသော ပွဲကို မှူးတော်မတ်တော် ကျွန်
တော်တို့အဖို့လုပ်သဖြင့်၊ နိုင်ငံတော် ထိုင်းပြည်
တို့ကို မင်းမှုလွှတ်၍၊ စည်းစိမ်တော်နှင့် လျော်
၁၉ စွာဆုချတော်မူ၏။- ထွီးကညာတို့သည် ဒုတိယ
အကြိမ်၌ စုဝေးသော အခါ၊ မော်ဒကဲ သည် နန်း
၂၀ တော်၌တံခါးမှူးဖြစ်၏။-ဧသတာသည်မော်ဒကဲ
ထံ မွေးမြူခြင်းကို ခံ၍နေစည်အခါ၊ သူ၏စကား
ကို နား ထောင် သည်နည်းတူ၊ နားထောင်သေး
သည်ဖြစ်၍၊ မော်ဒကဲ ထတိပေးသည် အတိုင်း၊
မိမိအမျိုး၊ မိမိ ဆွေညာတကာ တို့ကို မဖော်မပြ
ဘဲနေသတည်း။
၂၁ ထိုကာလထတွင်၊ မော်ဒကဲသည် နန်းတော်၌တံ
ခါးမှူးဖြစ်စည်၊ မိဂထန်နှင့်တေရက်တည်းဟူ

၅ ထုံးပြတော်မူ၏-ထိုကာလလွန်ပြီးမှ၊ ရှင်ဘုရင်
သည်ရှုရှန်နန်းတော်၌စည်းဝေးသောသူအကြီး
အငယ်အပေါင်းတို့အဖို့နန်းတော်အနားဥယျာဉ်
တော်ဝင်းထဲမှာ ခုနှစ်ရက် ပတ်လုံး ပွဲခံတော်မူ
၆ ၏။- ငွေကွင်း တပ်သော ကျောက်ဖြူ တိုင်တို့၌၊
မောင်းသောပိတ်ချောကြိုးဖြင့် ဆွဲကာသောပိတ်
ချောကုထားကာ အဖြူ အစိမ်း အပြာတို့နှင့်ငုင်း၊
ခင်းသောကျောက်ပြား၊ အနီအပြာအဖြူ အနက်
တို့အပေါ်မှာ ထားသော ရွှေငွေအနေ အထိုင်တို့
၇ နှင့်ငုင်း၊ ဥဘည်တော်သည်ပြည့်စုံ၏၊- ရှင်ဘုရင်
စည်းစိမ်နှင့်လျော်စွာ ထူးခြားသော ရွှေဝတ္ထု
တို့နှင့်များစွာသော စပျစ်ရည်ကိုသောက်ကြ၏။-
၈ စပျစ်ရည်သောက်ခြင်းအမှုသဉ်တရားအတိုင်း
ဖြစ်၏၊ အဘယ်သူကိုမျှ အနိုင်မသောက်စေ၊ လူ
အပေါင်းတို့သည် ကိုယ်အလို အလျောက်ပြုကြ
မည်အကြောင်း၊ နန်းတော်အရာရှိ အပေါင်းတို့
၉ ကိုရှင်ဘုရင်မိန့်တော်မူ၏။- မိဖုရားဝါရှတိသဉ်
သည်၊ ရှင်ဘုရင် အာရှုရုနန်းတော်သားမိန်းမတို့
အဖို့ပွဲထုပ်လေ၏။
၁၀ မိဖုရားဝါရှတိသဉ်အဆင်းလှသောအကြောင်း၊
၁၁ ခုနှစ်ရက် မြောက်သောနေ့၌၊ ရှင်ဘုရင် သည်
စပျစ်ရည်သောက်၍ ရွှင်လန်းသောစိတ်ရှိသော
အခါ၊ မိဖုရား အဆင်းလှခြင်း အသရေကို မင်း
များနှင့်လူများတို့အားပြလိုသော၌၊မိဖုရားဝါ
ရှတိကိုရာဇသရဖူဆောင်းစေ၍၊ အထံတော်သို့
ဆောင်ခဲ့ရမည် အကြောင်း၊ မဟုမန်၊ ဗိဇသ၊
ဟာဗောန၊ ဗိဂသ၊ အဗာဂသ၊ ဇေသာ၊ ကာ
ကတ်ထည်း ဟုသောအမှုတော်ထမ်း၊ မိန်းမိုးရု
၁၂ နှစ်ယောက်တို့ကိုမိန့်တော်မူ၏။- သို့ရာတွင်၊ မိန်း
မိုးဆင့် ဆိုသော အမိန့် တော်ကို၊ မိဖုရား သည်၊
ငြင်းဆန်၍မလာဘဲနေ၏၊ ထိုကြောင့် ရှင်ဘုရင်
သည် အမျက် ထွက်၍၊ ဒေါသမီး လောင်လျှက်
နေတော်မူ၏။
၁၃ ထိုအခါကာလ‌ရှေ့နေ‌ရှေ့ထား၊ ဓလေ့ထုံးထားတော်ရှိ
၁၄ ၍၊မေရက်၊မာသေန၊မမုကန်တည်းဟူသော၊ ရှင်
ဘုရင်၏ မှုတ်နှာ တော်ကို အစည်းပုံးမြင်ရ၍၊ နိုင်ငံ
ပေ-သျှ အမြတ် ဆုံး သော လ ရသိ၊ မေဒိအ
တွင်းဝန်မင်းခုနှစ်ပါးတို့သဉ်အနားတော်၌ထိုင်
လျှက်ရှိ၍၊ တရား စီရင်ရာ ထမ်း ကို လေ့ကျက်
သော သူ အပေါင်း တို့နှင့်၊ ရှင်ဘုရင် တိုင်ပင်
သောထုံးစံရှိသည်အတိုင်း၊ ကျိုးကြောင်း
၁၅ ကိုနားလည်သောထိပညာရှိတို့ကိုခေါ်၍-မိန်းမိုး
ဆင့်ဆိုသော ဝါရှင်ဘုရင် အာရှုရု အမိန့်တော်
ကို၊ မိဖုရား ဝါရှတိ သည် နားမထောင် သော
ကြောင့်၊ ဓလေ့ထုံးတမ်းအတိုင်းသူ၌အဘယ်သို့စီရင်
၁၆ ရမည်နည်းဟု မေးတော်မူလျှင်- မမုကန်က၊ မိ
ဖုရားဝါရှတိသဉ်အရှင်မင်းကြီးကိုသာပြစ်မှား
သည်မဟုတ်ပါ၊ အရှင်မင်းကြီးအာရှုရုအစိုးရ
တော်မူသောတိုင်းပြည်အရပ်ရပ်၌ ရှိသောမင်း
များနှင့်ထင်းရဲသားများအပေါင်းတို့ကိုပြစ်မှား
၁၇ ပါပြီ၊-ရှင်ဘုရင်အာရှုရုသဉ်မိဖုရားဝါရှတိကို
ခေါ်၍၊ မိဖုရားမလာဟု အနှံ့အပြားပြောကြသ
ဖြင့်၊မိဖုရားပြုသော၌အမှုကိုခင်ပွန်းသောမိန်း
တို့သည်ကြား၍၊ မိမိတို့ခင်ပွန်းကိုမထီမဲ့မြင်ပြု
၁၈ ကြပါလိမ့်မည်၊ မိဖုရားပြုသော၌အမှုကိုပေရ
သိ၊မေဒိမင်းကတော်တို့သည်ကြားသိကြလျှင်၊
မှူးတော် မတ်တော် အပေါင်း တို့ အား ထိုနည်း
တူပြန်ပြောသဖြင့်၊ အားမနာတတ်သော မိတ်
ဒေါသ မိတ် တိုးပွား စရာ အကြောင်း ရှိပါ လိမ့်
၁၉ မည်။-ဝါရှတိသည်အရှင်မင်းကြီးအာရှုရုထံ
တော်သို့ နောက် တဖန် မဝင် စေ ခြင်း ငှါ အလို
တော်ရှိလျှင်၊ မဝင်စေနှင့် ဟု မိန့်တော် မူပါ၊ စ
ပြောင်းလဲ နိုင်သော အမိန့်တော်ရှိစေခြင်းငှါပေ
ရသိ၊မေဒိဓမ္မသတ်၌ သွင်း၍ ရေးစေတော်မူပါ၊
ဝါရှတိထက်ကောင်းသောမိန်းမကိုထဉ်း၊ မိဖုရား
၂၀ အရာ၌ ချီးမြှောက် တော် မူပါ။- ထိုသို့ပြုလျှင်၊ ရှင်
ဘုရင် ပေးတော် မူသော အမိန့် တော်ကို၊ ကျယ်
ဝန်းသော နိုင်ငံ တော်တရှောက် လုံး ကျော်ညာ
သောအခါ၊ မိန်းမအပေါင်းတို့သည် ကိုယ်ခင်ပွန်း
အယုတ်အမြတ်တို့ကို ရိုသေ ကြပါလိမ့်မည် ဟု၊
ရှင်ဘုရင်နှင့်မှူးမတ်တို့ရှေ့မှာလျှောက်ထား၏။-
၂၁ ထိုစကားကို ရှင် ဘုရင်နှင့် မှူးမတ် တို့သည် နှစ်
သက် ၍ မမုကန် လျှောက် သည် အ တိုင်း ရှင်
၂၂ ဘုရင် ပြုလျှက်- လူ တိုင်း မိမိအိမ်ကို အုပ်စိုးရ
မည် အကြောင်း၊ မိမိ လူ မျိုး စကား ကို ပြောရ
မည် အကြောင်း၊ အတိုင်း တိုင်း အပြည် ပြည်
ထသာ စကား အသီးအသီးကို အနုတ်ပြန်၍၊
နိုင်ငံတော် အရပ်ရပ် တို့ အမိန့် တော် စာကို ပေး
ယိုက်တော်မူ၏။

၂

၁ ထိုနောက်ရှင်ဘုရင် အာရှုရုသည် မိတ်ဒေါသပြေ
သောအခါ၊ ဝါရှတိကိုငုင်း၊ သူပြုသောအမှုနှင့်သူ
တဖက်၌စီရင်သောအမှုကိုငုင်းအောက်မေ့တော်
၂ မူ၏။- အထံတော်၌ ခစားသော လုလင်တော် တို့က

ထည်း၊ အဆင်းလှသော ပျိုကညာတို့ကိုအရှင်
မင်းကြီးအဖို့ ရှာရပါမည် အကြောင်း၊ အခွင့်
၃ ပေးတော်မူပါ။- အဆင်းလှသောပျိုကညာအ
ပေါင်းတို့ကိုရှုရှန် နန်းတော်တွင်၊ အပျိုတော်နေ
ရာသို့စုဝေးစေ၍၊ နန်းတော်မိန်းမစိုး၊ အပျိုတော်
အုပ်ဟေဂဲ၌အပ်စေခြင်းငှါ၊ နိုင်ငံတော်အတိုင်း
တိုင်း အပြည်ပြည် မင်းအရာရှိတို့ကို ခန့်ထား
တော်မူပါ။စင်ကြယ်စေခြင်းငှါ၊ ဆေးမျိုးကိုအပ်
၄ ပေး တော်မူ ပါ။- နှစ်သက် တော် မူသော ပျို
ကညာကိုမိဖုရားဝါရှတိအရာ၌ ခန့်ထားတော်
မူပါဟု၊ လျှောက်သော စကားကို ရှင်ဘုရင် နှစ်
သက်၍ထိုသို့စီရင်တော်မူ၏။
၅ ထိုကာလတွင်ရှုရှန်မြို့တော်၌၊ ဗင်္ယာမိန်အမျိုး
ကိရှ၊ ရှိမိ၊ ယာဣရတို့မှဆင်းသက်သော၊ မော်ဒ
၆ ကဲအမည်ရှိသောယုဒလူတယောက်ရှိ၏။-ထိုသူ
သည် ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာသိမ်း
သွားသော ယုဒရှင်ဘုရင် ယေခေါနိမှစ၍၊ ဖမ်း
ဆီး သိမ်းသွားခြင်းကို ခံရသော လူစု၌ ပါသ
၇ တည်း။-ထိုသူသည်တထွေးသမီးဟာဒဿတည်း
ဟူသောဧသတာကိုမွေးမြူ၏။ထိုသတို့သမီးသည်
မိဘမရှိ။ ပုံပြင်ယည်ကျေး၍၊ အသွေးအဆင်း
လည်းလှ၏။ မိဘသေသောအခါ၊မော်ဒကဲသည်
ယူ၍ကိုယ်သမီးကဲ့သို့မှတ်သတည်း။
၈ ရှင်ဘုရင်အမိန့်တော်ကိုထုတ်၍ ကျော်သော
အခါ၊ အပျိုများတို့ကိုရှုရှန်နန်းတော်သို့ စုဝေး
စေ၍၊ မိန်းမစိုးဟေဂဲ၌ အပ်ရာတွင်၊ ဧသတာကို
လည်း နန်းတော်သို့ ခေါ်ဆောင်၍ ဟေဂဲ၌ အပ်
၉ ကြ၏။-ဧသတာသည်ဟေဂဲစိတ် နှင့်တွေ့၍မျက်
နှာရသဖြင့်၊ဟေဂဲသည်စင်ကြယ်စေသောဆေး
မျိုးနှင့် ပေးရ သော အဝတ် အစားကို အလျင်အ
မြန်ပေး၏။ နန်းတော်၌ရွေးကောက်သောကျွန်မ
ခုနစ်ယောက်တို့ကိုလည်းပေး၍၊ဧသတာနှင့်သူ
၏ကျွန်မတို့ကို အပျိုတော်နန်းတွင်၊ အမြတ်ဆုံး
၁၀ သောနေရာ၌ချီးမြှောက်ထေ၏။- ဧသတာသည်
မိမိ အမျိုးနှင့် မိမိဆွေညာ တကာ ကို မဖော်မပြ
မည် အကြောင်း၊ မော်ဒကဲသတိ ပေး သည်အ
၁၁ တိုင်း၊ မဖော်မပြဘဲ နေ၏။- ဧသတာသည် အ
ဘယ်သို့ ရှိသည်ကို၎င်၊ သူ၌အဘယ်သို့ ပြုကြ
လိမ့်မည်ကို၎င်၊မော်ဒကဲသည်သိခြင်းငှါ၊အပျို
တော်နန်းဝင်းရှေ့မှာနေ့တိုင်းသွားလာ၏။
၁၂ ထို အပျို တော် တို့ ထုံးစံ အ တိုင်း၊ တနှစ် စေ့
သောအခါ တယောက်နောက် တယောက်၊ အ
လှည့် သင့်သည်အတိုင်း၊ ရှင်ဘုရင် အာရွှေရုထံ
သို့ဝင်ရ၏။ ခြောက်လပတ်လုံးမုရန်ဆီ၊ ခြောက်
လပတ်လုံး နံ့သာမျိုးအစရှိသော၊ စင်ကြယ်စေ
သောဆေးမျိုးကိုသုံး၍၊ စင်ကြယ်ခြင်း အမှုပြီး
သည်တိုင်အောင်၊ ထိုမျှကာလကို လွန်စေရ၏။-
၁၃ ထိုနောက်မှ၊ အပျို တော်သည် ရှင်ဘုရင် ထံသို့
ဝင်ချိန် ရောက်သော အခါ၊ အလိုရှိသ မျှတို့ကို
တောင်း၍၊ အပျိုတော်နန်းမှရှင်ဘုရင်နန်းတော်
၁၄ သို့ယူသွားရ၏။- ညဦး အချိန်၌ ဝင်၍နံနက်အ
ချိန်၌နန်းတော်မိန်းမစိုး၊ မောင်းမမိသံအုပ်၊ ရှာရှ
ဂါဇစောင့်သောဒုတိယမိန်းမနန်းသို့ပြန်ရ၏။ ရှင်
ဘုရင်ချစ်၍ နာမည်အားဖြင့် ခေါ်တော်မမူလျှင်၊
နောက်တဖန်အထံတော်သို့မဝင်ရ။
၁၅ မိမိသမီးကဲ့သို့ မော်ဒကဲမွေးမြူသော၊ အထွေး
အဘိဟဲလသမီး ဧသတာသည် အလှည့်သင့်၍၊
ရှင်ဘုရင်ထံသို့ ဝင်ရသော အခါ၊ နန်းတော်မိန်း
မစိုး၊ အပျိုတော်အုပ်ဟေဂဲစီရင်သော အရာမှတ
ပါး၊ အဘယ်အရာကိုမျှမတောင်း၊ ဧသတာကို
တွေ့မြင်သမျှသော သူတို့သည် ချစ်တတ်ကြ၏။-
၁၆ ထိုသို့ ရှင်ဘုရင်အာရွှေရုသည် နန်းစံ ခုနစ်နှစ်၊
တေဗက်အမည်ရှိသောဒသမလတွင်၊ ဧသတာ
၁၇ ကို နန်း တော်၌ သိမ်း တော် မူပြီး လျှင်- အခြား
သော ပျို ကညာ အပေါင်း တို့ ထက်၊ ဧသတာ
သည်မိတ်တော်ကို နှူးညွတ်စေ၍၊ အထံတော်၌
မျက်နှာရသဖြင့်၊ ရှင်ဘုရင်သည် အခြားသော
မိန်းမတကာတို့ကိုချစ်သည်ထက်၊ဧသတာကိုသာ
၍ချစ်သောကြောင့်၊သူခေါင်းပေါ်မှာရာဇသရဖူ
ကိုတင်၍၊ မိဖုရား ဝါရှတိ အရာ၌ ချီးမြှောက်
၁၈ တော်မူ၏။- ထိုအခါရှင်ဘုရင်သည် ဧသတာပွဲ
ဟူ၍၊ ကြီးသော ပွဲကို မှူးတော်မတ်တော် ကျွန်
တော်တို့အဖို့လုပ်သဖြင့်၊ နိုင်ငံတော် တိုင်းပြည်
တို့ကို မင်းမှုလွတ်၍၊ စည်းစိမ်တော်နှင့် လျော်
၁၉ စွာဆုချတော်မူ၏။- ပျိုကညာတို့သည် ဒုတိယ
အချိန်၌ စုဝေးသော အခါ၊ မော်ဒကဲ သည် နန်း
၂၀ တော်၌တံခါးမှူးဖြစ်၏။-ဧသတာသည်မော်ဒကဲ
ထံ မွေးမြူခြင်းကို ခံ၍နေစဉ်အခါ၊ သူ၏စကား
ကို နား ထောင် သည်နည်းတူ၊ နားထောင်သေး
သည်ဖြစ်၍၊ မော်ဒကဲ သတိပေးသည် အတိုင်း၊
မိမိအမျိုး၊ မိမိ ဆွေညာတကာ တို့ကို မဖော်မပြ
ဘဲနေသတည်း။
၂၁ ထိုကာလတွင်၊ မော်ဒကဲသည် နန်းတော်၌တံ
ခါးမှူးဖြစ်စဉ်၊ မိဂသန်နှင့်တေရက်တည်းဟူ

သောနန်းတော်မြို့၌ မြို့၊ တစ်ခါတည်းနှင့်ထောင်ထိ
ထိုသည်ကိုခေါ်သိမ်းတော်မူ၍၊ ရှင်ဘုရင် အမှုကို
၁၄ ထုတ်ကြေညာသည်ကို အနှံ့ထုတ်ကြ၏။ ထိုစာကို
မော်ဒကဲထံ၌မိမိရှာနိုင်သလောက်အားစော်ပြ၏။ထို
ထိုမော်ဒကဲ ဖော်ပြ ကြောင်းကို၊ စသောထည်
၁၅ ရှင်ဘုရင်အား လျှောက်ထား၏။ ထိုအမှုကိုစ်
ကြောင်း၍ အမှန် သိသော အခါ၊ ထိုသူနှင့်ထောင်
ထိုကိုထစ်ပင်၌ ထည်ထွဲ ရှုပြီး၍၊ ရှင်ဘုရင် ရွှေ
နန်းတော်ရှေ့ စာ၌ရေးမှတ်ထားသည်။

၄

၁ ထိုနောက်မှ ရှင်ဘုရင်အာဏာမှုထည် အာဂတ်
အမျိုး၊ ထရွေဂါသသား ထာမန်ကို မြှောက်ထ
၍၊ အထံတော်၌ ရှိသော မှူးမတ် အပေါင်း ထို
ထက်၊ သာ၍မြင့်မြတ်သောရာထူးကိုပေးတော်မူ
၂ ၏။ နန်းတော်တံခါးသို့ရောက်သောရှင်ဘုရင်၏
ကျွန် အပေါင်းတို့သည်၊ အမိန့်တော် ရှိသည်အ
တိုင်း၊ ထာမန်ကို ဦးချ၍ ရိုကြ၏။ မော်ဒကဲမူ
၃ ကား ဦးမချ ရိုမရို။ နန်းတော်တံခါးသို့ ရောက်
သောရှင်ဘုရင်၏ကျွန်တို့က၊ ထင်ထည်ရှင်ဘုရင်
အမိန့်တော်ကို အဘယ် ကြောင့် ငြင်း ဆန် ထ
နည်းဟု၊ နေ့တိုင်းမော်ဒကဲအား မေးမြန်းသတိ
၄ ပေးသော်လည်း၊ မော်ဒကဲက၊ ငါသည် ယုဒလူ
ဖြစ်သည်ဟု ပြန်ပြော၍၊ သူတို့စကားကို နားမ
ထောင်သောကြောင့်၊သူတို့သည်မော်ဒကဲစကား
တည်မည်၊ မတည်မည်ကို သိလိုသော၍၊ ထာ
၅ မန်အားကြားပြောကြ၏။ ထိုသို့မော်ဒကဲသည်
ဦးမချ ရိုမရိုဘဲနေကြောင်းကို၊ ထာမန်သိမြင်
၆ သောအခါ၊ အလွန်အမျက်ထွက်၍ သူတို့သည်
မော်ဒကဲအမျိုးကိုပေါ်ပြသောကြောင့်၊မော်ဒကဲ
တယောက်တည်းကိုကွပ်မျက်လျှင်၊ စိတ်မပြေ
ထောက်ဟု၊ထာမန်သည်အာခါရွေးလျှက်မော်
ဒကဲအမျိုးသားချင်းတည်းဟူသောအာရှုရုနိုင်
ငံအရပ်ရပ်၌ ရှိသော၊ ယုဒလူအပေါင်း တို့ကို
ဖျက်ဆီးခြင်းငှါ ရှာကြံလေ၏။
၇ ထိုကြောင့် အာရှုရုနန်းစံ ဆယ်နှစ်နှစ်မြောက်သော
အမည်ရှိသောပဌမလတွင်၊ နေ့ရက်အစည်၊ ထ
အစဉ်အတိုင်းလိုက်၍၊ အာခါ အမည်ရှိသောဂူ
စထမ ထထိုင်အောင်၊ ထာမန်ရှေ့မှာ ပုရစာရေး
၈ တံဂူကြ၏။-ထာမန်ထာမန်ထည်ရှင်ဘုရင်အာရှု
ရုထံတော်သို့ဝင်၍၊အခြားတပါးသောလူမျိုးအ
ပေါင်းတို့နှင့်ကျွင်ရာ ထုံးတစ်ခုမထူ၊ အရှင်မင်း
ကြီး၏ပရိုင်တော် မှုဂျက် ထိုကို နားမထောင်၊ နိုင်ငံ
တော်အထွင်း၊ ထိုင်းထုပြည့်သော အမျိုးမျိုးထို
ထွင်၊ အရပ်ရပ်ကွဲပြားလျှက် နေသောလူမျိုး၊ ထ
မျိုးရှိပါ၏၊ ထိုအမျိုးကို အရှင့် ပေးတော်မူရာ၌
၉ ကျေးဇူးတော်မရှိပါ။ ကိုယ်တော် ထစေသော်မူ
လျှင်၊ ထိုအမျိုးကိုဖျက်ဆီးစေဟုအမိန့်ရှိတော်မူ
ပါ။ ထိုအမှုကို ဆောင် ရွက် သော သူတို့သည်
ထဏ္ဍာတော်တိုက်ထဲသို့ငွေအခွက်တထောင်ကို
ထွင်းစေခြင်းငှါ၊ ကျွန်တော်အစ်ပေး ပါမည်ဟု
၁၀ လျှောက်လေ၏။- ရှင်ဘုရင်ကလည်း၊ ထိုင်ဘွေကို
၁၁ ထင့်အား ငါပေး၏။ ထိုလူမျိုးကိုလည်း၊ ထင်
ထည် ပြုချင်သမျှ ပြုရသော အခွင့် ရှိစေခြင်းငှါ၊
ထင်၌ငါအပ်သည်ဟု၊ လက်စွပ်တော်ကို ချွတ်
၍၊ယုဒအမျိုး၏ရန်သူ ဖြစ်သောအာဂတ်အမျိုး
ထရွေဂါသသား ထာမန်အား ပေး တော်မူ၏။-
၁၂ ထိုအခါ ပဌမလ ထထယ်သုံးရက်ရေ့ ထွင်း၊ အ
ရေး တော်ကြီး ထို ကို ခေါ်၍၊ ကိုယ်စားစော
င်း၊ အပြည်ပြည်အုပ်သော မြို့ဝန်[illegible]
ရင်သော သူကြီး ထို့ကို ထာမန်မှာထား[illegible]
တိုင်း၊ လူအမျိုးမျိုးပြောသော စကား[illegible]
သိအောင်မြင့်၊ ရှင်ဘုရင်အာရှုရု၏ အမိန့်တော်
စာကိုရေး၍၊ ရှင်ဘုရင်၏ လက်စွပ် တော်နှင့်ထိ
၁၃ ဆိပ်ခတ်လေ၏။- အာဒါ အမည်ရှိသော ဂူ၊ ထ
မထတထထိသုံးရက်တနေ့ချင်းတွင်၊ လူငယ်လူ
ကြီး၊ အငယ်မိန့်၊ အကလေးမှစ၍သမျှတို့ကို သတ်
ဖြတ်ထုတ်သင်ပယ်ရှင်း၍၊ ထူထိုဥစ္စာကို လုယူ
သိမ်းရုံး စေခြင်းငှါ၊ အမိန့်တော်စာကို စာပို့လု
ထင်ထို မြင့်၊ နိုင်ငံ တော် အပြည်ပြည်သို့ စေ
၁၄ ထိုက် သော၏။- ၌ ရွှေကလာ၊ လူ အမျိုးမျိုး ထို
သည် ထိုနေ့ရက်တွင်၊ အသင့်ရှိစေခြင်းငှါ၊ အ
တိုင်း တိုင်း အပြည်ပြည်၌ ကြော်ညာ ရသော
၁၅ အမိန့် တော် စာချက် ဖြစ် သ တည်း။- ရှုရှန် နန်း
တော်၌ ထို အမိန့် တော် စာကို ကြော်ညာ ပြီးမှ၊
ရှင် ဘုရင် မိရင်သည် အတိုင်း၊ စာပို့ လု ထင် ထို
သည် တလျှင်ထမြန် ပြေးသွား ကြ၏၊ ရှင်ဘုရင်
နှင့် ထာမန်သည် သောက်ရည်သောက်ပွဲ၌ ထိုင်ကြ၏၊
ရှုရှန် မြို့တော်သည် ထင်းရဲ မြင်းသို့ ရောက် အ
ထည်။။

၅

၁ ထိုအမှုရှိသမျှကိုမော်ဒကဲသိသောအခါ၊ မိမိ
အဝတ်ကိုဆုတ်၍ ပြာနှင့်လူးလျှက်၊ လျှော်တေ
အဝတ်ကို ဝတ်လျှက်၊ မြို့အလယ်သို့ သွား၍ ကြီး
၂ ကျယ်သောအသံနှင့်ငိုကြွေးအော်၏။-လျှော်တေ

အဝတ်ကိုဝတ်လျှက်၊ နန်းတော်တံခါးထဲသို့အ
ထယ်သူမျှ မဝင်ရသော့ကြောင့်၊ နန်းတော်တံ
၃ ခါးရှေ့မှာရပ်နေ၏။- ရှင်ဘုရင်အမိန့်တော် စာ
ရောက်လေသော အပြည်ပြည် တို့၌၊ ယုဒလူတို့
သည်အလွန်ညည်းတွားခြင်း၊ အစာရှောင်ခြင်း၊
ငိုကြွေးမြည်တမ်းခြင်းကိုပြု၍၊ လူများတို့သည်
၄ ပြာနှင့် လျှော်တေအဝတ်၌ အိပ်ကြ၏။- မော်ဒ
ကဲ အမှုကို ဧသတာ၏ ကျွန်မတို့နှင့် မိန္မ မိုး တို့
သည် ကြားပြောသော အခါ၊ မိဖုရား သည် အ
လွန်ဝမ်းနည်းလျှက်၊ မော်ဒကဲဝတ်သော လျှော်
တေကိုပယ်၍၊ အခြားသောအဝတ်ကို ဝတ်စေ
ခြင်းငှါပေးလိုက်သော်လည်း၊ မော်ဒကဲသည်မ
၅ ခံမယူဘဲနေ၏။- တဖန်ဧသတာသည်ရှင်ဘုရင်
အမိန့်တော်နှင့် ခစားသော မိန္မ မိုး ဟာတက်ကို
ခေါ်၍၊ အဘယ်အမှုရှိသနည်း၊အဘယ်ကြောင့်
ဤသို့ ပြုသနည်းဟု မော်ဒကဲကို မေးစေ ခြင်းငှါ
၆ စေလွှတ်သည်အတိုင်း- ဟာတက်သည် မော်ဒ
ကဲရှိရာ နန်းတော် တံခါးရှေ့၊ မြို့တော် ထမ်းသို့
၇ သွား၍- မော်ဒကဲသည် မိမိ၌ရောက်သောအမှု
ရှိသမျှကိုဎင်၊ ဟာမန်သည် ယုဒလူတို့ကိုဖျက်
ဆီးခြင်းငှါ၊ ငွေမည်မျှကိုဘဏ္ဍာတော်တိုက်ထဲ
သို့ သွင်းပါ မည်ဟု၊ ဂတိ ထား ကြောင်းကိုဎင်
၈ ကြားပြောလျှက်-ယုဒလူတို့ကိုဖျက်ဆီးခြင်းငှါ၊
ရှုရှန် နန်း တော် ၌ ထုတ် သော အမိန့် တော် စာ
ထက်ခံကို ဧသတာ အားပြစို့ ပေး၍၊ ဧသတာ
သည် မိမိလူမျိုးအဖို့ တောင်းလျှောက် ခြင်းငှါ၊
ရှင်ဘုရင် ထံတော်သို့ ဝင်ရမည် အကြောင်း မှာ
၉ ထိုက် လေ၏။- ဟာတက် သည် လည်း လာ ၍
မော်ဒကဲစကားကိုဧသတာအားပြန်ပြော၏။
၁၀ တဖန်ဧသတာသည်ဟာတက်အားဖြင့်၊မော်
၁၁ ဒကဲကို မှာလိုက် သည်ကား၊- ယောက်ျား ဖြစ်
စေ၊မိန္မဖြစ်စေ၊ရှင်ဘုရင်ခေါ်တော်မမူဘဲအတွင်း
တန်တိုင်း၊ ရှင်ဘုရင် ထံတော်သို့ ဝင်မိသော သူ
သည်၊ အသက်ချမ်းသာ ရမည်အကြောင်း၊ ရွှေ
ရာဇလှံတံကို ကမ်းတော် မမူလျှင်၊ အမှန်သေရ
မည် အကြောင်း၊ အမိန့် တော် ရှိ သည်ကို၊ ရှင်
ဘုရင်၏ ကျွန်တော်မျိုးများ နှင့် နိုင်ငံတော် ပြည်
သူပြည်သားများအပေါင်းတို့သည်သိကြ၏။အ
ကျွန်ုပ် ကို ကား အရက် သုံးဆယ် ပတ် လုံး၊ ရှင်
၁၂ ဘုရင် ထံတော် သို့ ခေါ်တော် မမူ ဟု- ဧသတာ
စကားကို မော်ဒကဲ အား ပြန်ပြောသော အခါ၊
မော်ဒကဲက၊ အခြားသော ယုဒလူအသက်မလွှတ်
၁၃ လျှင်- နန်းတော်၌နေသော်လည်း၊ သင့်အသက်
၁၄ လွှတ်မည်ဟုမထင်နှင့်။- ယခုကာလသင်သည်
တိတ်ဆိတ်စွာနေလျှင်၊ သင်နှင့်သင်၏အဆွေအ
မျိုးသည်ပျက်စီး၍၊ ယုဒလူတို့အသက်ရှင်ခြင်း၊
ကယ် တင်ခြင်း အကြောင်း တစုံ တခု ပေါ်လိမ့်
မည်။ ယခုအမှုကိုဆောင်ဖို့ရာသင်သည်မိဖုရား
အရာ ကို ရ သည်ဟု၊ ထင် စရာ ရှိသည် မ ဟုတ်
လောဟု ဧသတာအား ပြန်ပြော စေခြင်းငှါ မှာ
၁၅ လိုက်၏။- ဧသတာကလည်း၊ ရှုရှန်မြို့၌ရှိသော
ယုဒလူအပေါင်းတို့ကိုစုဝေးစေခြင်းငှါသွားပါ။
နေ့ညဥ့်မပြတ်သုံးရက်ပတ်လုံးမစားမသောက်
ဘဲနေ၍၊ အကျွန်ုပ်အဖို့အစာရှောင်ခြင်းအကျင့်
ကိုကျင့်ကြပါ။ အကျွန်ုပ်သည်လည်း ကျွန်မတို့
နှင့်တကွ အစာ ရှောင်ခြင်း အကျင့် ကို ကျင့်ပါ
မည်။ ထိုနောက်၊ အာဏာတော်ကို ဆန်ရသော်
လည်း၊ ရှင်ဘုရင်ထံတော်သို့ဝင်မည်။ သေလျှင်
အသေ ခံပါမည်ဟု၊ မော်ဒကဲ အား ပြန်ပြော စေ
ခြင်းငှါ မှာလိုက်သမျှအတိုင်း၊ မော်ဒကဲ သည်
သွား၍ပြုလေ၏။

၅

၁ သုံးရက် မြောက် သော နေ့ ၌၊ ဧသတာ သည်
မိဖုရားအဝတ်တန်ဆာကိုဝတ်ဆင်၍၊နန်းတော်
အဆောင်မ တဖက်တချက်၊ နန်းတော် အတွင်း
တန်တိုင်း ထဲမှာရပ်နေ၏။ ရှင်ဘုရင်သည် နန်း
တော်တံခါး တဖက်တချက်၊ နန်းတော်ထဲ၊ ရာဇ
၂ ပလ္လင်ပေါ်မှာထိုင်တော်မူ၏။- မိဖုရားဧသတာ
သည် တန်တိုင်းတော်ထဲမှာ ရပ်နေသည်ကို ရှင်
ဘုရင် သည် မြင် လျှင်၊ ရှုးညွတ်သော စိတ် ရှိ၍
ထက်တော်၌ပါသောရွှေရာဇလှံတံကို၊ဧသတာ
သို့ကမ်းတော်မူသဖြင့်၊ဧသတာသည်ချဉ်းကပ်
၃ ၍၊ ရာဇလှံတံတော် အထွဋ်ကိုတို့လေ၏။ -ရှင်
ဘုရင်ကလည်း၊ မိဖုရား ဧသတာ၊ သင်သည်အ
ထယ်အလိုရှိသနည်း၊အဘယ်ဆုကိုတောင်းချင်
သနည်း။တောင်းသမျှကိုနိုင်ငံတော်တဝက်တိုင်
၄ အောင်ငါပေးမည်ဟုမိန့်တော်မူလျှင်- ဧသတာ
က၊အရှင်မင်းကြီးအလိုတော်ရှိလျှင်၊ အရှင်မင်း
ကြီးအဖို့ ကျွန်တော်မပျင်ဆင်သောပွဲသို့ဟာမန်
နှင့်တကွယနေ့ကြွတော်မူပါဟု လျှောက်သော်-
၅ ရှင်ဘုရင်က၊ ဧသတာလျှောက်သည်အတိုင်းပြု
အံ့သောငှါ၊ ဟာမန်သည်အလျင်အမြန်လာစေ
ဟုမိန့်တော်မူသဖြင့်၊ ဧသတာ ပျင်ဆင်သော ပွဲ
သို့ဟာမန်နှင့်တကွရှင်ဘုရင်ကြွတော်မူ၏။

၆ ထိုနောက် စပျစ်ရည် သောက်ပွဲခံစဉ်၊ ရှင်ဘုရင်
က၊ ဧသတာ၊ သင်သည်အဘယ်ဆုကိုအလိုရှိသနည်း၊ ပေး
မည်။ သင်သည် အဘယ်ဆုကို
တောင်းချင်သနည်း။ နိုင်ငံတော်တဝက်တိုင်အောင်
ပေး မည်ဟု ဆိုသော်၊ ဧသတာက
၇ မိန့်တော်ရှိလျှင်- ကျွန်တော်မတောင်းချင်သော ဆု ဟူမူကား၊
၈ ကျွန်တော်မကို အရှင် မင်းကြီး၏ မျက် နှာ တော်
ရလျှင်၎င်း၊ ကျွန်တော်မ အလိုရှိ၍၊ ကျွန်
တော်မတောင်းချင်သော ဆုကို ပေးသနားခြင်း
ငှါ၎င်း၊ အရှင်မင်းကြီး အလိုတော်ရှိလျှင်၎င်း၊ ကျွန်
တော်မ ပြင်ဆင်သော ပွဲသို့ အရှင် မင်းကြီးသည်
ဟာမန် နှင့် တကွ ထပ်မံ ကြွတော်မူပါ၊ အမိန့်
တော်ရှိသည်အတိုင်း နက်ဖြန်နေ့၌ကျွန်တော်မ
ပြုပါမည်ဟု ပြန်လျှောက်လေ၏။
၉ ထိုနေ့၌ ဟာမန်သည် ဝမ်းမြောက် ရွှင်လန်း
သောစိတ်နှင့်ထွက်သွားတော်သည်။ နန်းတော်
တံခါး ဝမှာ မော်ဒကဲ သည် မထ၊ မလှုပ်ရှားဘဲ နေသည်ကိုမြင်သောအခါ၊ မော်
၁၀ ဒကဲကိုအမျက်ထွက်လေ၏။ သို့ရာတွင်၊
မိမိစိတ်ကိုချုပ်တည်းလျက်သွား၍၊ မိမိအိမ်သို့
ရောက်သောအခါ၊ မယား ဇေရက် နှင့် အဆွေ
၁၁ ခင်ပွန်း တို့ကို ခေါ်ပြီးလျှင်- မိမိဘုန်း စည်းစိမ်
ကြီးကြောင်း၊ သားသမီးများကြောင်း၊ ရှင်ဘုရင်
အထွန်း ချီးမြှောက်၍၊ မှူးတော် မတ်တော် ကျွန်
တော်များထက်၊ သာ၍မြင့်သောအရာ၌ခန့်
၁၂ ထားတော် မူကြောင်း များကို ပြောပြလျက်- မိ
ဖုရား ဧသတာ သည် မိမိပြင်ဆင်သော ပွဲသို့ ငါမှ
တပါး၊ အဘယ်သူကိုမျှ ရှင်ဘုရင်နှင့်အတူ မဝင်
စေ။ နက်ဖြန်နေ့၌ထည်း ရှင်ဘုရင်နှင့်အတူငါ့ကို
၁၃ ဖိတ်ပြန်၏။- သို့ရာတွင်၊ ယုဒလူမော်ဒကဲသည်
နန်းတော် တံခါးဝမှာ ထိုင်လျက် ရှိသည်ကိုငါ
မြင်ရသည့်ကာလပတ်လုံး၊ ထိုရလာဘ်ဖြင့်အမှုထို
၁၄ သည်ငါ၌ကျေးဇူးမရှိဟုဆို၏။- ထိုအခါ မယား
ဇေရက် နှင့် အဆွေ ခင် ပွန်း ရှိ သ မျှ တို့ က၊ အ
တောင်ငါးဆယ်မြင့်သောသစ်ပင်ကိုလုပ်ကို စိုက်
ထား၍၊ ထိုပင်၌မော်ဒကဲကိုဆွဲထားစေမည်အ
ကြောင်း၊ နက် ဖန် ထံ တော် ဦး၊ ထိုင် သော၊ ထို
နောက်မှ၊ စိတ်ရွှင်လန်းလျက် ရှင်ဘုရင်နှင့် အ
တူ ပွဲသို့ ဝင်သော့ဟု၊ ပြောဆိုသော စကား၊ ကို
ဟာမန် သည် နှစ် သက် ၍၊ သစ်ပင် ကို
လုပ်စေ၏။

၆

၁ ထိုနေ့ညဉ့်မှာရှင်ဘုရင်သည် စက်တော်ခေါ်၍ မ
ရပ်နိုင်သောကြောင့်၊ နန်းတော်မှတ်စာကိုယူခဲ့
၂ ဟု မိန့်တော် မူ၍ ရှေ့တော်၌ ဖတ်ရကြ၏။- ရှင်
ဘုရင်အသျှေရုကိုလုပ်ကြံမည်ဟု၊ မှာကြံသော
နန်းတော်မိန့်မိုး၊ တံခါးစောင့်နှစ်ယောက်၊ ဗိဂ
ထန် နှင့် တေ ရက် အ ကြံ ကို မော် ဒ ကဲ ဖော်ပြ
၃ ကြောင်းကိုတွေ့လျှင်- ရှင်ဘုရင်က၊ ထိုအကြံကို
ဖော်ပြသောကြောင့်၊ မော်ဒကဲအားအဘယ်ဆု၊
အဘယ် အရာကို ပေးပြီနည်း၊ ဟု မေး တော် မူ
တော်၊ အထံတော်၌ ခစားသောကျွန်တော်တို့က၊
အဘယ် ဆုကိုမျှ ပေးတော် မမူပါသေး၊ ဟု ပြန်
၄ လျှောက်ကြ၏။- ရှင်ဘုရင်ကလည်း၊ တန်တိုင်း
တွင်း၌ အဘယ် သူ ရှိသနည်း၊ ဟု မေးတော်မူ
လျှင်၊ ဟာမန်သည် မိမိလုပ်နှင့်သော သစ်ပင်မှာ
ထိုင်၌မော်ဒကဲကို ဆွဲသတ်ရမည်အကြောင်း၊
နန်းတော်ပြင် တန်တိုင်းတွင်းသို့ ဝင်ပြီသည်ဖြစ်
၅ ၍- ရှင်ဘုရင်၏ ကျွန်တို့က၊ ဟာမန်သည် တန်
တိုင်းတော် တွင်း၌ ရှိပါ၏ဟု လျှောက် ကြသော်၊
၆ အထဲသို့ဝင်စေဟုမိန့်တော်မူ၏။- ဟာမန်သည်
ဝင်လျှင် ရှင်ဘုရင် က၊ ရှင်ဘုရင် ချီးမြှောက် လို
သော သူ ၌ အဘယ် သို့ ပြုသင့် သနည်း၊ ဟု မေး
တော်မူလျှင်၊ ဟာမန်က ငါမှ တပါး၊ ရှင်ဘုရင်
သာ၍ ချီးမြှောက်လိုသောသူ တစုံတယောက်ရှိ
နိုင်သလောသဟု၊ စိတ်ထဲမှာ အောင်း၍ မှတ်လျက်-
၇ ရှင်ဘုရင်ချီးမြှောက်ခြင်းငှါ၊အလိုတော်ရှိသော
၈ သူအမှို၊ ရှင် ဘုရင် ဝတ်ဆင် တော် မူ သော မင်း
ခြောက်တန်ဆာ၊ရှင်ဘုရင်စီးတော်မူသောမြင်း
တော်၊ ခေါင်းတော်မှုသော ရာဇသရဖူကိုယူခဲ့
၉ ၍- ထိုတန်ဆာတော်နှင့်မြင်းတော်ကို ဘုန်းကြီး
သောမှူးတော် မတ်တော်တပါး၌ အပ်ပြီး၍၊ ရှင်
ဘုရင် ချီးမြှောက်ခြင်းငှါ၊ အလိုတော်ရှိသောသူ
ကို ထိုအဝတ်တန်ဆာတော်နှင့် ဝတ်ဆင် စေ၍၊
မြင်းတော်ကို စီးစေပြီးလျှင်၊ မြို့တော် ထစ်မှန့်၌
ဆောင်သွားလျက်၊ ရှင်ဘုရင်ချီးမြှောက် ခြင်းငှါ
အလိုတော် ရှိသော သူ၌၊ ဤသို့ ပြုရသည်ဟု ထု
ရွေးမှာ ကြွေးကြော်ပါစေဟု၊ ရှင်ဘုရင်အားပြန်
၁၀ လျှောက်လေ၏။- ထိုအခါ ရှင်ဘုရင်က၊ သင်ပြော
သည် အတိုင်း၊ အလျင် အမြန် သွား၍၊ အဝတ်
တန်ဆာနှင့်မြင်းတော်ကိုယူပြီးလျှင်၊ ယုဒအမျိုး
သား၊ နန်းတော် တံခါး ဝ မော်ဒကဲ၌ ပြုလော့။
သင်ပြောသမျှတွင်၊ တစုံတခုမျှမထပ်စေနှင့်ဟု

၁၁ ဟာမန်အား မိန့်တော်မူ၏။- ထိုအခါ ဟာမန်
သည်အဝတ်တန်ဆာတော်နှင့် မြင်းတော်ကိုယူ
၍၊ မော်ဒကဲကို ဝတ်ဆင်စေပြီးလျှင်၊ မြင်းတော်
ကို စီးစေသဖြင့်၊ မြို့တော်လမ်းမ၌ ဆောင်သွား
လျက် ရှင်ဘုရင်ချီးမြှောက်ခြင်းငှါ၊ အလိုတော်
ရှိသောသူ၌ ဤသို့ ပြုရသည်ဟု၊ လူရှေ့မှာကြွေး
၁၂ ကြော်၏။- ထို့ပြီးမှ၊ မော်ဒကဲသည်နန်းတော်တံ
ခါးသို့ ပြန်လာ၏။ ဟာမန်မူကား၊ ညည်းတွား
လျက်ခေါင်းကိုခြုံလျက်၊ မိမိအိမ်သို့အလျင်အ
၁၃ မြန်သွားပြီးလျှင်- မိမိ၌ဖြစ်လေသမျှကို မယား
ဇေရက်နှင့် အဆွေခင်ပွန်းရှိသမျှတို့အား ကြား
ပြောလေ၏။မယားဇေရက်နှင့်ဟာမန်၏အဆွေ
ပညာရှိ တို့က လည်း၊ ကိုယ်တော် ရှုံးစ ရှိသော
မော်ဒကဲသည်၊ ယုဒအမျိုးမှန်လျှင်၊ကိုယ်တော်
သည် သူကို မနိုင်၊ သူ့ရှေ့မှာ ဧကန် အမှန် ရှုံးရ
၁၄ မည်ဟု ပြန်ပြော ကြ၏။- ထိုသို့ ပြောဆို စဉ်
တွင်၊ နန်းတော် မိန်းမစိုးတို့သည်လာ၍၊ ဧသတာ
ပြင်ဆင်သော ပွဲသို့၊ ဟာမန် ကို အလျင် အမြန်
ခေါ်သွားကြ၏။

၇

၁ တဖန်ရှင်ဘုရင်နှင့်ဟာမန်သည်၊ မိဖုရားဧသ
တာနှင့်အတူ စပျစ်ရည်သောက်အံ့သောငှါ သွား
၂ ကြ၏။- ဒုတိယနေ့ရက်၌စပျစ်ရည်သောက်ပွဲခံ
စဉ်၊ ရှင်ဘုရင်ကမိဖုရားဧသတာ၊ သင်သည်အ
ဘယ်အလိုရှိသနည်း။ အလိုရှိသည်အတိုင်းငါ
ပေးမည်။ အဘယ်ဆုကို တောင်း ၍ သနည်း။
တောင်း သမျှ၊ ငါ့နိုင်ငံတော်တဝက် တိုင်အောင်
၃ ငါပေးမည်ဟုမိန့်တော်မူလျှင်- မိဖုရားဧသတာ
က၊ အရှင်မင်းကြီး၊ ကျွန်တော်မကိုမိတ်နှင့်တွေ့
တော် မူလျှင် ၎င်း၊ အလိုတော် ရှိလျှင် ၎င်း၊ ကျွန်
တော်မ ဖနံပို အပိုင်း ကျွန်တော်မအသက် နှင့်
ကျွန်တော်မ တောင်းပန် သည့်အပိုင်း၊ အမျိုး
သားချင်းအသက်ကို ချမ်းသာပေးတော် မူပါ။-
၄ ကျွန်တော်မ နှင့် ကျွန်တော်မ အမျိုး သားချင်း
တို့ကို သတ် ဖြတ် သုတ်သင် ပယ် ရှင်း ခြင်း ငှါ
ရောင်း ပါပြီ။ ကျွန် ယောကျ်ား ကျွန်မိန်း ဖြစ်စေ
ခြင်းငှါ ရောင်းလျှင်၊ ရန်သူသည် ရှင်ဘုရင် အ
ကျိုး နည်းခြင်း မတွက် အဘိုးကို ပေး နိုင်သော်
လည်း၊ ကျွန်တော်မတိတ်ဆိတ်စွာနေပါမည်ဟု
၅ လျှောက်လေ၏။- ရှင်ဘုရင်အာရှုရုကလည်း၊
ထိုသို့ ပြုမည်ဟု ကြံစည်သောသူကား အဘယ်သူ
နည်း။ အဘယ်မှာရှိသနည်းဟုမိဖုရားဧသတာ
၆ အားမေးတော်မူလျှင်- ဧသတာက၊ရန်ဘက်ပြု
သောရန်သူသည်ဤဆိုးညစ်သောဟာမန်ဖြစ်ပါ
၏ဟုလျှောက်သော်၊ဟာမန်သည်ရှင်ဘုရင်နှင့်
မိဖုရား ရှေ့မှာ ကြောက်ရွံ့ ခြင်းသို့ ရောက် လေ
၇ ၏။- ထိုအခါ ရှင်ဘုရင် သည် အမျက် ထွက်သ
ဖြင့်၊စပျစ်ရည်သောက်ပွဲမှထ၍ဥယျာဉ်တော်သို့
သွားတော်မူ၏။ အပြစ်ပေးတော်မူမည်ဟု ဟာ
မန်သည် ရိပ်မိ၍၊ အသက် ချမ်းသာရမည် အ
ကြောင်း၊ မိဖုရား ဧသတာ ရှေ့ မှာ တောင်း ပန်
၈ ခြင်းငှါထ၏။- ရှင်ဘုရင်သည် ဥယျာဉ် တော်မှ
စပျစ်ရည်သောက်ပွဲခံရာအရပ်သို့ ဝင်ပြန်သော
အခါ၊ ဧသတာထိုင်သောသာလွန်နားမှာ ဟာ
မန်သည်ပြပ်ဝပ်လျက်နေသည်ကိုမြင်လျှင်၊ ဤ
သူသည် နန်းတော်၌ငါ့ရှေ့မှာမိဖုရားကိုအဓမ္မပြု
ရမည်လောဟု မိန့်တော်မူစဉ်တွင်၊ အခြံအရံ
၉ တို့သည်ဟာမန်၏မျက်နှာကိုဖုံးကြ၏။- မိန်းမစိုး
ဟာဗောနကလည်း၊ အရှင်မင်းကြီး၏ အကျိုး
တော်ကိုစောင့်၍၊ လျှောက်ထားသောမော်ဒကဲ
အဖို့ ဟာမန် လုပ် ၍ အတောင် ငါး ဆယ် မြင့်
သောလည်ဆွဲချတိုင်သည်၊ ဟာမန်အိမ်၌ စိုက်
ထားလျက်ရှိပါ၏ဟုနားတော်လျှောက်သော်၊ ထို
တိုင်၌သူ့ကိုလည်ဆွဲချလော့ဟု ရှင်ဘုရင်မိန့်တော်မူ၏။-
၁၀ ထိုသို့ မော်ဒကဲအဖို့ လုပ်သော လည်ဆွဲချတိုင်၌
ဟာမန်ကို ဆွဲချကြ၏။ ရှင်ဘုရင်လည်း အမျက်ပြေ
တော်မူ၏။

၈

၁ ထိုနေ့ချင်းတွင်၊ ရှင်ဘုရင်အာရှုရုသည်ယုဒ
အမျိုး၏ ရန်သူဟာမန်အိမ်ကို မိဖုရား ဧသတာ
အား ပေးတော်မူ၏။ ဧသတာသည် မော်ဒကဲနှင့်
အဘယ်သို့ ဖောက်ဖော် တော်သည်ကို ဧသတာ
လျှောက်သဖြင့်၊မော်ဒကဲသည်ရှင်ဘုရင်ထံတော်
၂ သို့ဝင်ရ၏။- ရှင်ဘုရင်သည်လည်း၊ ဟာမန်လက်
မှ နုတ်သောလက်စွပ်တော်ကိုတဖန်ချွတ်၍မော်
ဒကဲအားပေးတော် မူ၏။ ဧသတာသည်လည်း၊
ဟာမန်အိမ်ကိုမော်ဒကဲ၌အပ်လေ၏။
၃ တဖန်ဧသတာသည်ရှင်ဘုရင်ခြေတော်ရင်း၌
ပြပ်ဝပ်၍၊ အာဂတ်အမျိုး ဟာမန် ပြုသော အ
ပြစ်၊ ယုဒအမျိုးတဘက်၌ကြံစည်သောအကြံအ
စည်ကိုပယ်တော်မူမည်အကြောင်း၊ မျက်ရည်
၄ ကျလျက်တောင်းပန်လေ၏။- ရှင်ဘုရင်သည်ရွှေ
ရာဇလှံတံကိုဧသတာသို့ကမ်းတော်မူသဖြင့်၊ ဧ
သတာသည်ထ၍ရှင်ဘုရင်ရှေ့တော်၌ရပ်လျက်-
မှာ

၅ အရှင်မင်းကြီးအလိုတော်ရှိ၍၊ ကျွန်တော်မကို
မိတ်နှင့် ထွေတော်မူလျှင်၎င်း၊ ကျွန်တော်မ အမှု
သည် ရှေ့တော်၌ လျှောက်ပတ်၍၊ ကိုယ်တော်
သည်ကျွန်တော်မကိုထည်းချစ်တော်မူလျှင်၎င်း၊
နိုင်ငံ တော် အတိုင်းတိုင်း အပြည်ပြည် တို့၌ ရှိ
သောယုဒလူတို့ကိုဖျက်ဆီးခြင်းငှါ၊ အာဂတ်အ
မျိုး ဟမ္မေဒါထ ထား ဟာမန် စီရင်သော စာကို
ပယ်မည်အကြောင်း၊ ထပ်၍ စာရေး စေတော်မူ
၆ ပါ။- ကျွန်တော်မအမျိုးအပေါ်သို့ရောက်ရသော
ဘေးကိုင်၎င်း၊ကျွန်တော်မ အမျိုးသားချင်းပျက်စီး
သောအမှုကို၎င်း၊ ကျွန်တော်မသည်ကြည့်ရှုခြင်း
ငှါ၊အဘယ်သို့တတ်နိုင်ပါမည်နည်းဟုလျှောက်
၇ ဆို၏။- ရှင်ဘုရင် အာရှေရု က ထည်း၊ ဟာမန်
သည် ယုဒလူတို့ကိုထိခိုက်သောကြောင့်၊ သူ၏
အိမ်ကိုမိဇုရားဧသတာအားငါပေးပြီ။ထိုသူကို
၈ ထည်းထည်တွဲချတိုင်၌ကွပ်ဖျက်စေပြီ။- ထိုရာ
တွင်၊ ရှင်ဘုရင် လက်စွပ်နှင့် တံဆိပ် ခတ် သော
ရှင်ဘုရင် အမိန့်တော်စာကို အဘယ်သူမျှမပယ်
ရသည်ဖြစ်၍၊မိတ်ရှိသည်အတိုင်းယုဒလူတို့အ
ဖို့အမိန့်တော်စာကိုတဖန်ရေး၍၊လက်စွပ်တော်
နှင့်တံဆိပ် ခတ်ရမည်ဟု၊ မိဖုရား ဧသတာနှင့်
ယုဒလူမော်ဒကဲတို့အားမိန့်တော်မူ၏။
၉ ထိုအခါသိဝန်အမည်ရှိသောတတိယလ၊နှစ်
ဆယ် သုံးရက် နေ့တွင်၊ စာရေးတော်ကြီး တို့ကို
ခေါ်၍၊ ဟိန္ဒုယ ပြည်မှ ကုရှ ပြည် တိုင် အောင်၊
တိုင်းပြည်တရာနှစ်ဆယ်ခုနှစ်ပြည်တို့၌ရှိသော
ယုဒလူ၊ ကိုယ်စားတော်မင်း၊ အပြည်ပြည်အုပ်
သောမြို့ဝန်၊မြို့သူကြီးတို့ကိုမော်ဒကဲမှာထားသ
မျှအတိုင်း၊ ယုဒထာသာစကားမှစ၍၊ လူအမျိုး
မျိုး ပြောသော စကား အသီးအသီး အားဖြင့်-
၁၀ ရှင်ဘုရင် အာရှေရု၏ အမိန့်တော်စာကို ရေး၍၊
ရှင်ဘုရင် လက် စွပ် တော်နှင့် တံဆိပ် ခတ် ပြီးမှ
မြင်း၊ လား၊ ကုလားအုတ်၊ မြည်း စီးသော စာပို့ လု
၁၁ လင် တို့ဖြင့် ပေးလိုက် လေ၏။- အမိန့်တော် စာ
၁၂ ချက်ဟူမူကား၊ အာဒါအမည်ရှိသော ဗွါဒသမ
လ တဆယ်သုံးရက် တနေ့ချင်းတွင်၊ နိုင်ငံတော်
အတိုင်းတိုင်းအပြည်ပြည်အမြို့မြို့၌ရှိသောယုဒ
လူတို့သည်စုဝေး၍၊ မိမိတို့အသက်ကိုစောင့်ရ
သောအခွင့်၊တိုက်လာသောပြည်သူ၊စစ်သူရဲအ
ပေါင်းတို့ကိုမိမွသူငယ်နှင့်တကွသတ်ဖြတ်သုတ်
သင်ပယ်ရှင်း၍၊ သူတို့ဥစ္စာကို လုယူသိမ်းရုံးရ
၁၃ သောအခွင့်ကိုရှင်ဘုရင်ပေးတော်မူ၏။- ဤရှေ့
ကား၊ ယုဒလူတို့သည် ထိုနေ့ရက်တွင်ရန်သူတို့
ကို ရန်တုံ့ပြုစေ ခြင်းငှါ၊ အတိုင်းတိုင်း အပြည်
ပြည်၌နေသောလူမျိုးအပေါင်းတို့အား၊ကျော်ရ
၁၄ သောအမိန့်တော်စာချက်ဖြစ်သတည်း။- ထိုအ
မိန့်တော်စာကို ရှုရှန်နန်းတော်၌ကျော်ပြီးမှ၊ ရှင်
ဘုရင်ကြပ်တည်းစွာစီရင်သည်အတိုင်း၊ စာပို့
လုလင်တို့သည်ဝဲလျှင်အမြန်ပြေးသွားကြ၏။
၁၅ မော်ဒကဲ သည်ထည်း၊ မင်းမြောက် တန်ဆာ
တည်းဟူသော အဝတ်အဖြူ အပြာကို ဝတ်ဆင်
လျက်၊ကြီးစွာသော ရွှေသရဖူကိုဆောင်းလျက်၊
ပိတ်ချောနှင့် မောင်းသောအထည်ဖြင့် ပြီးသော
ဝတ်လုံကိုခြုံလျက်၊ ရှင်ဘုရင်ထံတော်မှ ထွက်
၁၆ သွား၍- ရှုရှန်မြို့တော်သည် ဝမ်းမြောက် ရွှင်
လန်း ခြင်း သို့ ရောက် လေ ၏။ ယုဒ လူတို့ သည်
ထည်း၊ ထက်သာ ရွှင်လန်း၍ ဝမ်းမြောက် ခြင်း၊
၁၇ အသရေ ထွန်းလင်းခြင်းသို့ရောက် ကြ၏။- ရှင်
ဘုရင်အမိန့်တော်စာ ရောက်လေ သော အပြည်
ပြည်အမြို့မြို့၌၊ယုဒလူတို့သည်ဝမ်းမြောက်ရွှင်
လန်းခြင်း၊ ပွဲခံခြင်း၊ မင်္ဂလာနေ့စောင့်ခြင်းကိုပြု
၍၊ ပြည်သူပြည်သား အများတို့ သည် ယုဒ လူ
တို့ကို ကြောက်ရွံ့ သောကြောင့် ယုဒ ဘာသာကို
ဝင်ကြ၏။

၉

၁ ရှင်ဘုရင်အမိန့်တော်အတိုင်းစီရင်ရသောအ
ချိန်နီး၍၊ ယုဒအမျိုး၏ ရန်သူတို့က၊ ငါတို့နိုင်
မည်ဟုမျှော်လင့်သောနေ့၊ အမှုပြောင်းလဲ၍ယု
ဒလူတို့သည် မနာလိုသောသူတို့ကို နိုင်သောနေ့
ရက်တည်းဟူသော၊ အာဒါမည်သော ဗွါဒသမ
၂ လတဆယ်သုံးရက်နေ့တွင်၊- ရှင်ဘုရင်အာရှေ
ရု၏ နိုင်ငံတော် အပြည်ပြည် အမြို့မြို့၌ နေသော
ယုဒလူတို့သည်၊ညှဉ်းဆဲလိုသောသူတို့ကိုဆီး
တားခြင်းငှါစုဝေးကြ၏။ ပြည်သူပြည်သား အ
ပေါင်းတို့သည်ကြောက်ရွံ့သောကြောင့်၊အဘယ်
၃ သူမျှရန်မပြုနိုင်ဘဲနေကြ၏။-အပြည်ပြည်ကိုအုပ်
စိုးသောမင်း၊ ကိုယ်စားတော်မင်း၊ မြို့ဝန်မင်း၊
အမှုတော်စောင့်အရာရှိအပေါင်းတို့သည်မော်ဒ
ကဲကို ကြောက်ရွံ့ သောကြောင့်၊ ယုဒ လူတို့ကိုမ
၄ စကြ၏။- အကြောင်းမူကား၊မော်ဒကဲသည်နန်း
တော် တွင် ဘုန်း ကြီး လျက်၊ အတိုင်း တိုင်း အ
ပြည်ပြည်၌ သိတင်းနှံ့ပြား၍၊တနေ့ထက်တနေ့
၅ ကြီးမြင့်ရာသို့ရောက်သတည်း။-ထိုနေ့တွင်ယုဒ
လူတို့သည်ရန်သူ အပေါင်းတို့ကိုထားနှင့်ထုပ်

ကြီးထက်ခြိတ်ဖျက်ဆီး၍၊ မနာလိုသောသူတို့၌
၆ ပြုလိုသမျှပြုကြ၏။- ရှုရှန်မြို့တော်၌လူငါးရာတို့
၇-၁၀ ကိုလုပ်ကြံ သတ်ဖြတ်ကြ၏။- ယုဒ အမျိုး၏
ရန်သူ၊ ဟမ္မေဒါသသား၊ဖြစ်သော ဟာမန်၏သား
တကျိပ်တည်းဟူသော၊ ပါရှန္ဒာသ၊ ဒါလဖုန်၊ အာ
သပါသ၊ ပေါရသ၊ အာဒလိ၊ အာရိဒါသ၊ ပါမရှာ
သ၊ အရိသဲ၊ အရိဒဲ၊ ဝါဇေဇာသတို့ကိုလည်း
သတ်ကြ၏။ ထိုရာတွင်၊ သူတို့ဥစ္စာကို မသိမ်းမ
ယူဘဲနေကြ၏။
၁၁ ထိုနေ့၌ ရှုရှန် မြို့ တော်တွင် သေ သော သူ စာ
၁၂ ရင်းကိုရှင်ဘုရင်ရှေ့တော်မှာပြုကြ၏။- ရှင်ဘုရင်
သည်မိဖုရားဧသတာကိုခေါ်၍၊ယုဒလူတို့သည်
ရှုရှန်မြို့တော်၌ဟာမန်သားတကျိပ် နှင့်တကွလူ
ငါးရာတို့ကို လုပ်ကြံသတ်ဖြတ်ကြပြီးနိုင်ငံတော်
တွင်အခြားသော အပြည်ပြည်တို့၌ အဘယ်သို့
ပြုကြပြီနည်း။ သင်သည် အဘယ် အလို ရှိသေး
သနည်း။ထိုအလိုရှိသည်အတိုင်းငါပြုမည်။အဘယ်
ဆုကိုတောင်း ချင်သေးသနည်း။ တောင်းသမျှ
၁၃ ကိုငါပေးမည်ဟု မိန့်တော်မူလျှင်- ဧသတာက၊
အရှင်မင်းကြီးအလိုတော်ရှိလျှင်၊ ရှုရှန် မြို့ ၌ ရှိ
သောယုဒလူ တို့သည်ယနေ့ အမိန့်တော်အတိုင်း
နက်ဖြန်နေ့၌လည်းပြုရမည်အကြောင်း၊၊ဟာမန်
သားတကျိပ်ကိုလည်းလည်ဆွဲရှုထိုင်၌ ဆွဲထား
ရမည့် အကြောင်း၊၊အမိန့်ရှိတော်မူပါဟုလျှောက်
၁၄ သည်အတိုင်း၊-ရှင်ဘုရင်မိန့်တော်မူ၍ရှုရှန်နန်း
တော်၌အမိန့်တော်ကိုထုတ်ပြီးမှ၊ဟာမန်သား
၁၅ တကျိပ်ကိုဆွဲထားကြ၏။-ရှုရှန်မြို့၌ရှိသောယုဒ
လူတို့သည်လည်း၊ အာဒါလတ ဆယ်လေးရက်
နေ့ တွင်စုဝေး၍၊ ရှုရှန်မြို့သားသုံးရာတို့ကိုသတ်
ကြ၏။ ထိုရာတွင်၊သူတို့ဥစ္စာကို မသိမ်းမယူဘဲ
၁၆ နေကြ၏။-နိုင်ငံတော်အတိုင်းတိုင်းအပြည်ပြည်
၌ ရှိသော ယုဒ လူ အခြားတို့သည် အာဒါလတ
ဆယ်သုံးရက်နေ့တွင်၊ မိမိတို့အသက်ကို စောင့်
ရှောက်ရန်သူလက်သို့မရောက်ဘဲချမ်းသာရမည့်
အကြောင်း။ စုဝေး၍ ရန်သူ ခုနစ် သောင်း ငါး
ထောင်တို့ကို သတ်ကြ၏၊ ထိုရာတွင်၊သူတို့ဥစ္စာ
၁၇ ကိုမသိမ်းမယူဘဲနေကြ၏။-ထိုလတဆယ်လေး
ရက်နေ့တွင်၊ငြိမ်ဝပ်စွာနေ၍ ပွဲခံရာနေ့၊ပျော်မွေ့
၁၈ ရာနေ့ဖြစ်စေခြင်းငှါ စောင့်ရှောက်ကြ၏။- ရှုရှန်
မြို့၌ ရှိသော ယုဒ လူမူကား၊ တဆယ်သုံး
ရက်နေ့ နှင့် တဆယ်လေးရက်နေ့တွင် စုဝေးကြ
၏။တဆယ်ငါးရက်မြောက်သောအခါ၊ငြိမ်ဝပ်
စွာနေ၍ ပွဲခံရာနေ့၊ပျော်မွေ့ရာနေ့ဖြစ်စေခြင်းငှါ
၁၉ စောင့်ရှောက်ကြ၏။- မြို့ရိုးမရှိသောရွာတို့၌နေ
သောယုဒလူတို့သည်လည်း၊ အာဒါလတဆယ်
လေးရက်နေ့ကို ပျော်မွေ့စွာ ပွဲခံရာနေ့၊ မင်္ဂလာ
နေ့၊ တယောက်ကို တယောက်ထက်ဆောင်ပေး
လိုက်ရာနေ့ဖြစ်စေကြ၏။
၂၀ ထိုနောက်မော်ဒကဲသည် ဤအမှုအရာတို့ကို ရေး
၂၁ ထား၏။- ယုဒလူတို့သည်ရန်သူလက်မှလွတ်၍
၂၂ ချမ်းသာ ရသောနေ့၊ သူတို့ဝမ်းနည်းခြင်း နှင့်
ငြည်တမ်းခြင်းပျောက်၍၊ ဝမ်းမြောက်ခြင်းနှင့်
ပျော်မွေ့ခြင်းသို့ ရောက်သောလတည်း၊ ထိုသော
အာဒါလတဆယ်လေးရက်နှင့်တဆယ်ငါးရက်
နေ့တို့ကို၊ နှစ်တိုင်းစောင့်၍ ပွဲခံရာနေ့၊ ပျော်မွေ့
ရာနေ့၊ တယောက်ကိုတယောက် ထက်ဆောင်
ပေးလိုက်၍၊ ဆင်းရဲသောသူတို့အားစွန့်ကြဲရာ
နေ့ဖြစ်စေသောထုံးစံကို စီရင်ခြင်းငှါ၊ ရှင်ဘုရင်
အာရှုရုနိုင်ငံတော်အပြည်ပြည်၌၊ အနီးအဝေး
ရှိသောယုဒလူအပေါင်းတို့နေရာသို့စာကိုပေး
၂၃ လိုက်လေ၏။- ယုဒလူတို့သည်လည်း၊ ပြုစ၍
မော်ဒကဲမှာလိုက်သည်အတိုင်း၊ အမြဲပြုပါမည်
၂၄ ဟုဝန်ခံကြ၏။- ယုဒလူအပေါင်းတို့၏ရန်သူဖြစ်
သော အာဂတ်အမျိုး၊ ဟမ္မေဒါသသားဟာမန်
သည်ယုဒ အမျိုးကို ဖျက်ဆီး မည် အကြံ ရှိ၍၊
ဖျက်ဆီးပယ်ရှင်းခြင်းငှါ ပုရစာရေးတံချသော့
၂၅ ကြောင့်ပင်-ဧသတာသည်ရှင်ဘုရင် ထံတော်သို့
ဝင်၍ယုဒလူ တို့တစက်၌၊ ဟာမန်ကြံစည်သော
အမှုအကြံကိုသူ၏ခေါင်းပေါ်သို့ပြန်ရောက်စေ
မည်အကြောင်း၊၊ သူနှင့်သူ၏ သားတို့ကိုလည်း၊
လည်ဆွဲရှုထိုင်၌ဆွဲထားစေမည်အကြောင်း၊၊ အ
၂၆ မိန့်တော်စာကိုပေးတော် မူသည်ဖြစ်၍ပင်- ပုရ
ဟူသော စကားကို အစွဲပြုသဖြင့်၊ ထိုနေ့ တို့ကို
ပုရနေ့ ဟူ၍ ခေါ်ဝေါ် ကြ၏။ ထိုအမိန့်တော် စာ
ချက်နှင့်ကိုယ်တိုင်တွေ့မြင်သောအမှုကိုထောက်
၂၇ လျှက်- ယုဒလူတို့သည် ကိုယ်တိုင်မှစ၍ သား
မြေး၊ဟာသာဝင်သူအပေါင်းတို့နှင့်တကွ၊ မော်
ဒကဲမှာစာ၌စီရင်ထုံးဖွဲ့သည်အတိုင်း၊ထိုနေ့နှစ်
ရက်ကို နှစ်တိုင်း အစဉ် မပြတ် စောင့်မည်အ
၂၈ ကြောင်း၊- ထို ပုရနေ့ တို့ သည် ယုဒ အမျိုး၌ မ
ပျောက်၊ ထံ၌ စည် မြေးဆက် တို့သည် မေ့မ
လျော့၊ အပြည်ပြည်အမြို့မြို့၌နေသောအဆွေအ
မျိုးအသီးအသီးအစဉ်အဆက်တို့သည် စောင်း
စေ စောင့်ရှောက်မည် အကြောင်း ဝန်ခံကြ၏-

၂၉ ထိုအခါအဘိဟဲလသမီးမိဖုရား သေတာနှင့်ယုဒ
အမျိုး မော်ဒကဲတို့သည်၊ ပုရိမ်ပွဲတို့ကို မြဲမြံစွာ
တည်စေခြင်းငှါ၊ ကြပ်တည်းစွာအာဏာအား
၃၀ ၍၊ မှာစာကိုတဖန်ရေးထားကြ၏။- ယုဒအမျိုး
၃၁ သားမော်ဒကဲနှင့်မိဖုရားသေတာမှာထား၍၊ယု
ဒလူတို့သည်ကိုယ်အမှို့နှင့် သားစဉ်မြေးဆက်
အမှိုဝိရင်သည်အတိုင်း၊ဆိုနိုးဆုက်သောအမှိန်၌
အစာရှောင်ခြင်း၊ ဆုတောင်းခြင်းနှင့် တကွ ပုရ
ိမ်ပွဲတို့ကို အမြဲစောင့်စေခြင်းငှါ၊ အာရှုရု နိုင်ငံ
တော်တွင်တိုင်းပြည် တရာနှစ်ဆယ် ခုနှစ်ပြည်၌
ရှိသော၊ ယုဒလူအပေါင်းတို့ နေရာသို့ ငြိမ်သက်
စေသော သစ္စာစကားနှင့် ထိုမှာစာကို မော်ဒကဲ
၃၂ ပေးလိုက်လေ၏။- သေတာ စီရင် သော အား
ဖြင့်၊ ပုရိမ်ပွဲတို့ကို စောင့်ရာ ထုံးစံ သည်၊ အမြဲ
တည်၍ ဤစာ၌ရေးထားလျက်ရှိသတည်း။

၁၀

၁ ရှင်ဘုရင် အာရှုရုသည် မြေကြီးပေါ်၌၎င်း၊
ပင်လယ်တွင် ရှိသော ကျွန်းတို့ပေါ်၌၎င်း၊ ငွေ
၂ တော်ခွဲကြောင်းအခွန်ကိုစေသော၊- အာဏာ တန်ခိုး
တော်နှင့်စီရင် သမျှသော အမှုအရာ ရှားနှင့် တ
ကွ၊ ဘုန်းကြီးမြှောက်တော်မူခြင်းကိုခံရသောမော်ဒကဲ
၏ဘုန်းတန်ခိုး၊ ထင်ရှားသော အခြင်းအရာတို့
သည်မေဒိ၊ပေရသိရာဇဝင်တို့၌ရေးထားလျက်
၃ ရှိ၏။- ယုဒအမျိုးသား မော်ဒကဲသည် ရှင်ဘုရင်
အာရှုရုအောက်၌၊ အမြတ်ဆုံးသောအရာကိုရ
၍ ယုဒလူတို့ တွင် ဘုန်းကြီး၏။ မိမိအမျိုး၏ အ
ကျိုးစီးပွားကို ပြုစုလျက်၊ အမျိုးသားချင်း အ
ပေါင်းတို့အားမင်္ဂလာစကားကိုသာပြောလျက်၊
မိမိအမျိုးသားချင်း အပေါင်းတို့တွင် ချစ်နှစ်သက်ရ
သောသူဖြစ်သတည်း။

သေတာဝတ္ထုပြီး၏။

# ယောဘဝတ္ထု။

## BOOK OF JOB.

၁

၁ ယောသအမည်ရှိသော သူတယောက်သည်ဥ
ဇပြည်၌နေ၏။ ထိုသူသည် စုံလင်ဖြောင့်မတ်ခြင်း
ရှိ၏။ ဘုရား သခင်ကို ကြောက် ရွံ့သော သူ၊ မ
ကောင်းသောအကျင့်ကို ရှောင်သောသူဖြစ်၏။-
၂ သား ခုနှစ်ယောက်နှင့် သမီးသုံးယောက် ရှိ၏။-
၃ သူ၏ဥစ္စာကား၊သိုးခုနှစ်ထောင်၊ ကုလားအုတ်
သုံးထောင်၊ နွားရှဉ်း ငါးရာ၊ မြည်း မ ငါးရာ၊ ငယ်
သားအတိုင်းမသိများသည်ဖြစ်၍၊ ထိုသူသည်
အရှေ့မျက်နှာအရပ်သားတကာတို့ထက်သာ၍
ကြီးသောသူဖြစ်၏။
၄ ယောသ၏သားတို့သည်၊ နှစ်စဉ်တတိုင်းအ
သီးအသီးသွားသောနေ့ရောက်လျှင်၊ မိမိတို့အိမ်
၌ပွဲခံထဖြင့်၊နှမသုံးယောက်ကိုလည်းခေါ်၍၊
၅ အတူ စားသောက် လေ့ ရှိကြ၏။- ပွဲခံသောနေ့
ရက်လွန်သောအခါ၊ယောသသည်သူတို့ကိုခေါ်
၍၊ သန့်ရှင်းစေပြီးလျှင်နံနက်စောစောထ၍၊ သူ
တို့အရေအတွက်အတိုင်း မီးရှို့သောယဇ်ကိုပူ
ဇော်လေ့ရှိ၏။ အကြောင်း မူကား၊ သားတို့
သည်မှားယွင်း၍ စိတ်နှလုံးထဲ၌ ဘုရားသခင်
ကိုပြစ်မှားကြပြီလောဟု၊ ယောသအောင့်မေ့
၏။ထိုသို့ယောဘသည်အစဉ်ပြုမြဲရှိ၏။
၆ ဘုရားသခင်၏ သားတို့သည် ထာဝရဘုရား
ထံတော်၌ ခစားခြင်းငှါ လာရသော နေ့ရက်အ
ချိန် ရောက်လျှင်၊ စာတန်သည်လည်း သူတို့နှင့်
၇ ရောနှော၍လာ၏။- ထာဝရဘုရားက သည်း၊
သင်သည် အဘယ်အရပ်က လာသနည်းဟု စာ
တန် ကို မေး တော်မူလျှင်၊ စာတန်က၊ မြေကြီး
ပေါ်မှာလှည့်လည်၍အရပ်ရပ်သွားလာခြင်းအ
မှုထဲကလာပါသည်ဟု ပြန်လျှောက် လေ၏။-
၈ ထာဝရဘုရားကလည်း၊ ငါ့ကျွန်ယောသကိုဆင်
ခြင်ပြီလော၊ မြေကြီးပေါ်မှာ သူနှင့် တူသောသူ

ဘယောက်မျှမရှိ၊ စုံလင်ဖြောင့်မတ်ပေ၏၊ ဘုရား
သခင်ကိုကြောက်ရွံ့သောသူ၊ မကောင်းသောအ
ကျင့်ကိုရှောင်သောသူဖြစ်သည်ဟု၊ စာတန်အား
၉ မိန့်တော်မူ၏။- စာတန်ကလည်း၊ ယောဘသည်
၁၀ အကြောင်းမရှိဘဲဘုရားဝတ်ကိုပြုသလော။- ကိုယ်
တော်သည်သူကိုယ်မှစ၍၊ သူ့အိမ်နှင့်သူ၏ဥစ္စာရှိ
သမျှပတ်လည်၌ စောင့်ရန်းကာတော်မူသည်မ
ဟုတ်သလော၊ သူပြုသော သမျှတို့ကို ကောင်းကြီး
ပေးတော်မူပြီ၊ သူ၏သိုးနွားအစရှိသောတိရစ္ဆာန်
၁၁ တို့သည်မြေပေါ်မှာအလွန်ပွားများကြပြီ။- ယခု
မူကား၊ လက်တော်ကိုဆန့်၍သူ၏ ဥစ္စာရှိသမျှ
ကို ထိခိုက်တော်မူလျှင်၊ သူသည် မျက်မှောက်
တော်၌၊ ကိုယ်တော်ကိုစွန့်ပယ်ပါလိမ့်မည်ဟု၊
၁၂ ထာဝရဘုရားကိုပြန်လျှောက်လေ၏။- ထာဝရ
ဘုရားကလည်း၊ သူ၏ဥစ္စာ ရှိသမျှသည် သင့်
လက်၌ရှိ၏၊ ထိုကိုယ်တခုကိုသာမထိမခိုက်နှင့်
ဟုမိန့်တော်မူလျှင်၊ စာတန်သည်ထာဝရဘုရား
ထံတော်မှထွက်သွားလေ၏။
၁၃ တရံရောအခါ ယောဘ၏ သားသမီးတို့သည် အစ်
ကိုအကြီး၏အိမ်တွင်စား၍ စပျစ်ရည်ကို သောက်
၁၄ လျက်နေကြစဉ်၊- ယောဘ ထံသို့ တမန် ရော
ရောက်လာ၍၊ နွားတို့သည် ထယ်ထွန် လျက်၊
သူတို့အနားမှာ မြည်းမတို့သည် ကျက်စားလျက်ရှိ
၁၅ ကြသောအခါ၊- ရှေဘအမျိုးသားတို့သည်တိုက်
ယူသွားကြပါပြီ၊ လုလင်တို့ကိုလည်းဓားနှင့်
သတ်၍၊ ကျွန်တော်တယောက်တည်း ကျန်ရစ်
လျက်၊ ကိုယ်တော်အားသိတင်းကြားပြောရပါ
၁၆ သည်ဟု လျှောက် လေ၏။- ထိုသို့ လျှောက်စဉ်
တွင်၊ အခြား သော သူတယောက် သည် လာ၍၊
ဘုရားသခင်၏ မီးသည်မိုဃ်းကောင်းကင်မှကျ
သဖြင့်၊ သိုးများနှင့် လုလင်များတို့ကို လောင်
၍၊ သူတို့သည်ကျွမ်းကုန်ကြပါပြီ၊ ကျွန်တော်တ
ယောက်တည်းကျန်ရစ်လျက်၊ ကိုယ်တော်အား
သိတင်းကြားပြော ရပါသည်ဟု လျှောက်လေ
၁၇ ၏။- ထိုသို့လျှောက်စဉ်တွင်၊ အခြားသောသူတ
ယောက် သည် လာ၍၊ ခါလဒဲ အမျိုးသား တစ်
သုံးတပ်တို့သည်ရှိ၍၊ ကုလားအုတ်တို့ကိုတိုက်
ယူသွားကြပါပြီ၊ လုလင်တို့ကိုလည်းဓားနှင့်
သတ်၍၊ ကျွန်တော် တယောက်တည်း ကျန်ရစ်
လျက်၊ ကိုယ်တော်အားသိတင်းကြားပြောရပါ
၁၈ သည်ဟု လျှောက်လေ၏။- ထိုသို့ လျှောက်စဉ်
တွင်၊ အခြားသော သူတယောက် သည် လာ၍၊
ကိုယ်တော်၏ သားသမီးတို့သည် အစ်ကို အကြီး
အိမ်၌စား၍စပျစ်ရည်ကို သောက်လျက် နေကြ
၁၉ သောအခါ- တောမှလေကြီး လာ၍၊ အိမ်လေး
ထောင့်ကိုတိုက်သဖြင့်၊ အိမ်သည်လုလင်တို့
အပေါ်၌ ပြိုလဲပါ၏၊ သူတို့သည် သေ၍၊ ကျွန်
တော်တယောက်တည်း ကျန်ရစ်လျက်၊ ကိုယ်
တော်အား သိတင်း ကြားပြော ရပါသည် ဟု
၂၀ လျှောက်လေ၏။- ထိုအခါယောဘသည် ထ၍၊
မိမိဝတ်လုံကိုဆုတ်လေ၏၊ ဆံပင်ကိုလည်းရိတ်
၍ မြေပေါ်မှာ ဝပ်လျက် ကိုးကွယ်ပြီးလျှင်၊ ငါ
သည် အဝတ်မပါဘဲ အမိဝမ်းထဲက ထွက်လာ
၂၁ ၏။- အဝတ် မပါဘဲ အမိ ဝမ်းထဲသို့ ပြန် သွား
လေမည်၊ ထာဝရဘုရား ပေးတော်မူ၏၊ ထာ
ဝရ ဘုရားလည်း ရုပ်သိမ်းတော်မူ၏၊ ထာဝရ
ဘုရား၏ နာမတော်သည် မင်္ဂလာ ရှိပါစေသ
၂၂ တည်းဟုဆိုလေ၏။- ယောဘသည်ဤအမှုများ
နှင့် ရှေ့ကြို သော် လည်း မ ဒုစ်ပြစ်၊ ထာဝရ
ဘုရားကိုလည်းအပြစ်မတင်ဘဲနေ၏။

၂

၁ ထမန်ဘုရားသခင်၏ သားတို့သည် ထာဝရ
ဘုရားထံတော်၌ ခစားခြင်းငှါ၊ လာရသောနေ့
ရက်အချိန်ရောက်လျှင်၊ စာတန်သည်လည်းထာ
ဝရဘုရားထံတော်၌ ခစားခြင်းငှါ၊ သူတို့နှင့်အ
၂ တူလာ၏။- ထာဝရဘုရားကလည်း၊ သင်သည်
အဘယ်အရပ်ကလာသနည်းဟု စာတန်ကိုမေး
တော်မူလျှင်၊ စာတန်က၊ မြေကြီးပေါ်မှာ ဤသို့
သည်၍အရပ်ရပ်သွားလာခြင်း အမှုထဲကလာ
၃ ပါသည်ဟုပြန်လျှောက်လေ၏။- ထာဝရဘုရား
ကလည်း၊ ကျွန်ယောဘကိုဆင်ခြင်မိပြီလော၊
မြေကြီးပေါ်မှာသူနှင့် တူသောသူတယောက်မျှ
မရှိ၊ စုံလင်ဖြောင့်မတ် ပေ၏၊ ဘုရားသခင်ကို
ကြောက်ရွံ့သောသူ၊ မကောင်းသော အကျင့်ကို
ရှောင်သောသူဖြစ်၏၊ အကြောင်းမရှိဘဲ သူကို
ဖျက်ဆီးစေခြင်းငှါ၊ သင်သည် ငါ့ကို တိုက်တွန်း
သော်လည်း၊ သူသည်ဖြောင့်မတ်သောသဘော
ကိုစွဲထမ်းလျက် နေသည်ဟု၊ စာတန်အား မိန့်
၄ တော်မူ၏။- စာတန်ကလည်း၊ အရေနှင့်အရေကို
ဆိုသကဲ့သို့၊ လူသည်မိမိအသက်ချမ်းသာ ဥစ္စာရှိ
၅ သမျှကိုပေးပါလိမ့်မည်။- ယခုတမန်လက်တော်
ကိုဆန့်၍၊ သူ့အရိုးနှင့် သူ့အသားကို ထိ ခိုက်
တော်မူလျှင်၊ သူသည်မျက်မှောက်တော်၌ကိုယ်
တော်ကိုစွန့်ပယ်ပါလိမ့်မည်ဟု၊ ထာဝရဘုရား

၆ ကို ဖြန့်လျှောက် ထားလေ၏။ ထာဝရ ဘုရားက
လည်း၊ သူသည်သင့်လက်၌ရှိ၏။ သူ့အသက်က
၇ိုကို သာချမ်း စေလော့ မိန့် တော်မူလျှင်- စာတန်
သည် ထာဝရဘုရား ထံတော်မှ ထွက် သွား ၍၊
ယောဘ၏ခြေဖဝါးမှသည် ဦးထိပ်တိုင်အောင်၊
၈ ဆိုးသောအနာမိမ်းများတို့ပေါက်စေ၏။-ယော
ဘသည် ကိုယ်ကို ခြစ်စရာ အိုးခြမ်းကို ကိုင်ယူ
၉ ၍၊ မီးဖိုပြာထဲမှာထိုင်နေ၏။- ထိုအခါမယား
က၊ သင်သည်ဖြောင့်မတ်သောတရားကို စွဲထမ်း
သေးသလော၊ ဘုရားသခင်ကို စွန့်ပယ်၍သေ
၁၀ လော့ဟုဆို၏။-ယောဘကလည်း၊ မိုက်သောမိန်းမ
တတ် သကဲ့သို့ သင်သည် ပြော၏။ အဘယ် သို့
နည်း။ ငါတို့သည်ဘုရားသခင်၏ လက်တော်မှ
ကောင်းချမ်းသာကို ခံယူသည်ဖြစ်၍၊ ဒုက္ခဆင်းရဲ
ကိုမခံမယူရာသလောဟု ဆို၏။ ယောဘ သည်
ဤအမှုများနှင့်တွေ့ကြုံသော်လည်း၊ နှုတ်ဖြင့်မှား
မှားယွင်း၏။

၁၁ ထိုအခါတေမန် အမျိုးသား ဧလိဖတ်၊ ရှုအ
အမျိုးသားဗိလဒဒ်၊ နေမတ်အမျိုးသားဇောဖါ
တည်းဟူသော၊ ယောဘ၏ အဆွေခင်ပွန်း သုံး
ယောက်တို့သည်၊ သူ၌ရောက်သော ဤအမှုကြီး
အလုံးစုံတို့ကို သိတင်းကြားလျှင်၊ ယောဘနှင့်
အတူညည်းတွား၍၊ သူကိုနှစ်သိမ့်စေခြင်းငှါ၊
စည်းဝေးမည်ချိန်းချက်သည်အတိုင်း၊ အသီးအ
၁၂ သီး မိမိတို့နေရာ အရပ်မှ ရောက်လာကြ၏။- ထို
သူတို့သည်အဝေးကမျှော်ကြည့်၍ ယောဘကို
မသိလျှင်၊ အသံကို ဖွင့်၍ ငိုကြွေးကြ၏၊ အသီး
အသီး မိမိတို့ ဝတ်လုံကို ဆုတ်၍၊ မြေမှုန့်ကိုယူ
ပြီးလျှင်၊မိမိတို့ခေါင်းပေါ်သို့ကျဲရောက်စေခြင်း
၁၃ ငှါ၊ မိုဃ်းကောင်းကင်သို့ပြစ်တင်ကြ၏။- ခုနစ်
ရက်ပတ်လုံး၊ ယောဘ နှင့်အတူ မြေပေါ်မှာ ထိုင်
၍၊ သူသည် ပြင်းစွာသော ဆင်းရဲ ခံရကြောင်း
ကိုသိမြင်လျှင်၊ အဘယ်သူမျှစကားမပြောမဆို
ဘဲနေကြ၏။

၃

၁ ထိုနောက်၊ ယောဘသည်နှုတ်ကိုဖွင့်၍၊ မိမိ
၂ ဖွားသောနေ့ရက်ကိုကျိန်ဆဲလျက် မြွက်ဆိုသည်
၃ ကား၊- ငါဖွားသောနေ့ရက်ပျက်စီးပါစေ။ သား
ယောက်ျားကိုပဋိသန္ဓေ ယူပြီဟု၊ သိတင်းကြား
၄ ရပြီသော ညဉ့် လည်း ပျက်စီး ပါစေ။- ထိုနေ့
ရက်မိုက် ပါစေ။ ဘုရား သခင်သည် မှတ်နှာ ပြု
တော်မမူ ပါစေ နှင့်၊ အလင်း မပေါ်ထွန်း ပါစေ
၅ နှင့်။- မှောင် မိုက်၊ သေမင်း အရိပ် သည် ထိုနေ့
ရက် အထရေကိုရှုတ်ချ ပါစေ၊ မိုဃ်းတိမ် ထပ်
ထွစ်ဖုံး ပါစေ၊ ပွန်းတည့် အမှိန်ဖြင့် ကြောက်
၆ မက်ဖွယ်ဖြစ်ပါစေ။- ထိုညဉ့်သည်မှောင်မိုက်
၌ပျောက်ပါစေ၊ နှစ်စဉ်နေ့ရက်တို့နှင့် မပေါင်း
ပါစေနှင့်၊ လစဉ်ရေ အတွက်၌ မဝင် ပါစေ နှင့်။-
၇ ကြည့် ထိုညဉ့်သည် ဆိတ်ညံ ပါစေ၊ ရွှင်လန်း
၈ သောအသံမရှိပါစေနှင့်၊ နေ့ရက်ကိုချေ၍ ကျိန်
ဆဲတတ်သောသူ၊ မိကျောင်းကို သစေတတ်သော
၉ သူတို့သည်ထိုညဉ့်ကိုကျိန်ဆဲပါစေ။- ညဦးယံ
ကြယ်တို့ သည် မိုက် ပါစေ၊ ထိုညဉ့် သည် အ
လင်းကို တောင့်တ၍မရပါစေနှင့်၊ နံနက်မိုဃ်း
၁၀ လင်းကို မမြင်ပါစေနှင့်၊ အကြောင်းမူကား၊- ငါ
အမိ၏ဝမ်းကို မပိတ်မထား၊ ဒုက္ခဆင်းရဲကို ငါမ
မြင်စေခြင်းငှါမကွယ်မကာ။

၁၁ ငါသည် ဖွား စက အဘယ် ကြောင့် မသေ သ
နည်း။ အမိဝမ်းထဲမှထွက်စက အဘယ်ကြောင့်
၁၂ အသက်မချုပ်သနည်း။- ငါကို အဘယ် ကြောင့်
ပိုက်ထွေးရသနည်း၊ အဘယ် ကြောင့် နို့တိုက်ရ
၁၃ သနည်း။- ထိုသို့မပြုလျှင်၊ ငါသည်အိပ်၍ငြိမ်း
၁၄ ပြီ၊ ပျော်လျက်နေရပြီ၊ မြို့ပျက်တို့ကိုပြင်ဆင်ပြု
၁၅ သောလောကီ ရှင်ဘုရင်၊ မှူးမတ် တို့နှင့် ၎င်း၊ ရွှေ
ကိုရတတ်၍၊ ထဏ္ဍာ တိုက်၌ ငွေကိုအပြည့်သို
၁၆ ထားသော မင်းတို့နှင့် ၎င်း၊ ငါငြိမ်းရပြီ၊- သို့မ
ဟုတ်၊ အချိန်နေ့ ထမမွေး မွေးသောသူငယ်၊ အ
လင်းကို မမြင်ရသော သူငယ်ကဲ့သို့ ငါဖျက်ဆီးရ
၁၇ ပြီ၊- ထိုအရပ်၌လူဆိုးတို့သည် နှောက်တပန်မ
နှောင့်ရှက်ရ၊ ပင်ပန်းသောသူတို့သည်ချမ်းသာ
၁၈ ရကြ၏။- အချုပ် ခံရ သော သူတို့ သည်လည်း
အတူငြိမ်ဝပ်ရကြ၏၊ညှဉ်းဆဲသောသူ၏စကား
၁၉ သံကိုမကြားရကြ၊-ထိုအရပ်၌ကြီးသောသူနှင့်
ငယ်သော သူရှိကြ၏၊ ကျွန်သည်လည်း သခင်
ထံမှလွတ်ရ၏။

၂၀ ဒုက္ခဆင်းရဲခံရသောသူအားအဘယ်ကြောင့်
အလင်းကိုပေးသနည်း၊ စိတ်နှစ်လုံးခါးသောသူ
အား အဘယ်ကြောင့်အသက်ကိုပေးသနည်း။-
၂၁ သူတို့ သည် သေခြင်းကို တောင့် တ၍ မရနိုင်း၊
ဖုက်ထားသော ဥစ္စာကို ရှာ ခြင်းငှါ တူးသည်
ထက်၊ သေခြင်းအကြောင်းကို ရှာခြင်းငှါထော
၂၂ ၍တူးကြ၏။- သူတို့သည်သင်္ချိုင်းကို တွေ့
သောအခါ၊ အလွန်ဝမ်းမြောက်၍အထူးသဖြင့်
၂၃ ရွှင်လန်းကြ၏၊- မိမိ သွား သော လမ်း ကွယ်

ဖျောက်သောသူ၊ ဘုရားသခင်ဆီးကာချုပ်ထား
သောသူအား၊ အထင်းနှင့်အသက်ကို အထယ်
၂၄ ကြောင့်ပေးသနည်း။– အစာစားခြင်းအရာ၌ငါ
ညည်းတွားခြင်းရှိ၏။ ငါ၏ငိုကြွေးခြည်တမ်းခြင်း
ရှက်ရည်သည်ထည်း၊ ရေစီးသကဲ့သို့ ဖြစ်၏။–
၂၅ ငါကြောက်သောအမှုသည်ငါ၌ ရောက်လာပြီ။
ငါအလွန် ကြောက်သော ဘေးသည်ငါကို တွေ့မိ
၂၆ ပြီ။– ငါသည် ငြိမ်ဝပ် ခြင်းမရှိ၊ ချမ်းသာခြင်းမရှိ၊
သက်သာခြင်း မရှိ၊ ဒုက္ခ ဆင်းရဲ သက်သက် ရှိ
သည်ဟု မြွက်ဆိုလေ၏။

၄

၁ ထိုအခါတေမန်အမျိုးသား ဧလိဖတ်မြွက် ဆို
၂ သည်ကား၊–ငါတို့သည်သင်နှင့်နှုတ်ဆက်စမ်း
လျှင်၊ သင်သည်စိတ်ပျက်ကောင်းပျက်လိမ့်မည်။
သို့သော်လည်း၊ အဘယ်သူသည် စကားမပြော
၃ ဘဲနေနိုင်မည်နည်း။–သင်သည်လူအများတို့ကို
ဆုံးမပြီ၊ လက်မစွမ်းသောသူတို့ကိုခိုင်ခံ့စေပြီ။–
၄ သင်၏ စကား သည် လဲလုသော သူကို ထောက်
မပြီ၊ နုန့်နဲ့သော ဒူး တို့ကိုလည်း တည့်စေပြီ။–
၅ ယခုမူကား၊ ကိုယ်တိုင်အမှုတွေ့၍ စိတ်ပျက်၏။
အထိအခိုက် ခံရသောကြောင့် မိန်းမောတွေဝေ
၆ လျက် နေ၏။– သင်၏ ရိုသေသော သဘော၊ ယုံ
ကြည် ကိုးစားသောသဘော၊မျှော်လင့်သောသ
ဘော၊တည်ကြည်သောသဘော၊ တရားသဖြင့်
ကျင့်တတ်သော သဘောသည် အဘယ်မှာ ရှိသ
၇ နည်း။– အပြစ်နှင့် ကင်းလွတ်လျက်ပင်ပျက်စီး
ခြင်းသို့အဘယ်သူ ရောက်သနည်း။ ဖြောင့်မတ်
သောသူသည် အဘယ် အရပ်၌ ဆုံးသနည်းဟု
၈ ဆင်ခြင် ပါ လော့။– ငါသိမြင် သည် အတိုင်း၊ မ
တရားသော ထယ်ထွန်ခြင်းကို ပြုသော သူနှင့်၊
အဓမ္မမျိုးစေ့ကို ကြဲသောသူတို့သည်၊ ထိုသို့နှင့်
၉ အညီ စပါး ရိတ်တတ်ကြ၏။– ဘုရားသခင် မှုတ်
တော်မူသဖြင့်၊ထိုသူတို့သည်ပျက်စီး၍၊ ရှုတော်
၁၀ မူသောအသက်ဖြင့်လည်း ဆုံးရှုံးရကြ၏။– ချင်
သေ့ဟောက်ခြင်း၊ ကြမ်းတမ်းသော ချင်သေ့အ
သံမြည်ခြင်း၊ချင်သေ့ကလေးကိုက်ဝါးခြင်းငြိမ်း
၁၁ ရ၏။– ဖမ်း၍ စားစရာ မရှိသောကြောင့်၊ ကြမ်း
တမ်းသောချင်သေ့သည်သေ၍၊ ချင်သေ့မ၏သား
ငယ်တို့သည်အရပ်ရပ်ကွဲပြားရကြ၏။
၁၂ တရံရောအခါငါသည်တိတ်ဆိတ်စွာဗျာဒိတ်
၁၃ တော်ကိုရ၍ထိုသောအသံကိုကြားရ၏။– လူတို့
သည်ကြီးစွာသော ဖိပ်ပျော်ခြင်းသို့ ရောက်၍၊
ထူးဆန်းသော ရူပါရုံ ထင်ရှားရာ ကာလ ညဉ့်
၁၄ အမြဲနှိုင်၌၊ ငါ့အောင်းမေ့ စည်တွင်– ငအရိုး များ
တုန်လှုပ်သည်တိုင်အောင်၊ ငါအလွန်ကြောက်
၁၅ အားကြီး၍ ထိတ်လန့်လျက်နေ၏။– ဝိညာဉ်တ
ပါးသည်ငရှေ့၌ကန့်လန့်ရှောက်သွား၍၊ငါ့ထဦ
၁၆ ကြက်သီးမွေးညှင်းထလေ၏။– ထိုဝိညာဉ်သည်
ရပ် နေ၍၊ ပုံသဏ္ဍာန် လည်း သေချာစွာ မထင်
မရှား၊ အဆိုရပ် ကိုသာ ငါ မြင် ရ၏။ ငြိမ်း သော
အသံရှိ၍၊ ငါကြားသောစကားသံ ဟူမူကား၊–
၁၇ သေ တတ် သော လူ သည် ဘုရား သခင် ရှေ့ မှာ
ဖြောင့်မတ် ခြင်းရှိ ရသလော။ လူသတ္တဝါသည်
ဖန်ဆင်းတော်မူသောအရှင်ရှေ့မှာသန့်ရှင်းခြင်း
၁၈ ရှိရသလော။– အမှုတော်ထမ်းတို့ကိုယုံတော်မ
မူ။ကောင်းကင်တမန်တော်တို့၌ စုံလင်ခြင်းမရှိ
၁၉ ဟုထင်တော်မူ၏။– သို့ဖြစ်လျှင်၊မြေမှုန့်၌တည်
၍ မြေထဲတွင် နေတတ်သော သူတို့ကို အဘယ်
ဆိုဖွယ် ရှိ အံ့ နည်း။ ထိုသူ တို့ကို ပိုး ရှုပင် နိုင်
၂၀ တတ်၏။– တနေ့ချင်းတွင်ပျက်စီးတတ်ကြ၏။ အ
ထယ်သူမျှ ပမာဏမပြုဘဲအစည်ဆုံးရှုံးခြင်းသို့
၂၁ ရောက် တတ် ကြ ၏။– သူ တို့ ၏ ဂုဏ် အသ ရေ
ကွယ် ပျောက် ၍၊ သူတို့သည် ပညာ မရှိဘဲ သေ
သွားတတ်ကြ၏။

၅

၁ ယခု တစ် ခေါ်ပါ။ အဘယ် သူ ထူး လိမ့် မည်
နည်း။ သန့်ရှင်းသူတို့တွင် အဘယ်သူကိုကြည့်
၂ မျှော်မည်နည်း။– ဒေါသသည် လူမိုက်ကို ဖျက်
ဆီးတတ်၏။ပညာမရှိသောသူသည်လည်း၊ငြူစူ
သောသဘောအားဖြင့်သေခြင်းသို့ရောက်တတ်
၃ ၏။– မိုက်သောသူ အမြစ်စွဲသည်ကို ငါမြင်သော
၄ အခါ၊ သူ၏နေရာကို ချက်ချင်းကျိန်ဆဲ၏။– သူ၏
သား တို့ တို့သည် ဘေးလွတ်ရာ အရပ်နှင့် ဝေး
ကြ၏။ ရုံးတော်ရှေ့၌ ညှဉ်းဆဲခြင်းကိုခံရသော
၅ အခါ၊ကယ်နှုတ်သောသူတယောက်မျှမရှိ။–သူ
ရိတ်သော စပါးကို ငွတ်သိပ်သောသူသည်၊ ဆူး
ပင်ကာသောခြံ အထဲကယူသွား၍ စားတတ်၏။
သူ၏ ပစ္စည်းဥစ္စာကိုလည်းရေငတ်သောသူသည်
၆ မျို တတ်၏။– မြေမှုန့်ထဲကအမှု ရောက် သည်မ
၇ ဟုတ်။ဒုက္ခသည်မြေပေါ်မှာမပေါက်တတ်။– မီး
ပွားတို့သည်အထက်သို့ ပျံတတ်သည် နည်းတူ၊
လူသည်ဒုက္ခ၌ကျင်လည်ခြင်းငှါမွေးဖွားး၏။
၈ ငါ မူကား၊ ဘုရား သခင်ကို မျှော် လင့် မည်၊
၉ ကိုယ်အမှုကို ဘုရားသခင်၌အပ်မည်။– ဘုရား

ထခင်ထညီကြီးသော အမှု၊ စစ်၍ မကုန်နိုင်
သောအမှု၊ ရေတွက်၍မဆုံး၊ ဆန်းကြယ်သော
၁၀ အမှုတို့ကိုပြုတော်မူ၏။– မြေပေါ်မှာမိုဃ်းရွာစေ
၁၁ တော်မူခြင်း၊ လယ်တို့၌ရေကိုပေးတော်မူ၏။– ထိုသို့
နှိမ့်ချထားသော သူတို့ကို ချီးမြှောက် တော်မူ
၏။ ပြုငြင်သော သူတို့ကို ထည်း ဝမ်း သာ စေ
၁၂ တော်မူ၏။– ပရိယာယ်ပြုသော သူတို့၏ အမှုကို
မအောင်စေခြင်းငှါ၊သူတို့အကြံကိုဖျက်တော်မူ
၁၃ ၏။– ပညာရှိတို့ကိုသူတို့၏ ပရိယာယ် အားဖြင့်
ဖမ်းဆီးတော်မူ၏။ လှည့်စားတတ်သောသူတို့၏
ထိုင်ပင်ခြင်းကို အလျင်းမှိုး ဖြစ်စေတော် မူ၏။–
၁၄ ထိုသူတို့ သည် နေ့အချိန်၌ မှောင်မိုက်ကို တွေ့
၍၊ ညဉ့်အချိန်၌ ကဲ့သို့စမ်းတဝ့်အချိန်၌ စမ်း
၁၅ ထဲ လျှောက် သွား ထာ ရကြ ၏။– ထို သူတို့ မိရင်
သော ထား ဘေးမှ ၎င်း၊ အားကြီးသော သူတို့၏
ယတ်မှ၎င်း၊ ဆင်းရဲသားတို့ကို ကယ်နှုတ်တော်
၁၆ မူ၏။– ထိုသို့ဆင်းရဲသားတို့သည် မျှော်လင့်ရာ
အခွင့်ရှိကြ၏။ အဓမ္မ ထည်ထည်း မိမိနှုတ်ကို
ပိတ်ထား၏။
၁၇ ထပြစ်နှင့် အလျောက် ဘုရားသခင် စစ်ဆေး
တော်မူခြင်းကိုခံရသောသူသည်မင်္ဂလာရှိ၏။ထို
ကြောင့် အနန္တတန်ခိုးရှင် ဆုံးမတော် မူခြင်းကိုမ
၁၈ ထီမဲ့မြင် မပြုပါ နှင့်။– ထိုအရှင် သည် ထနာကို
ဖြစ်စေ၍၊ ထိုအနာ ကိုလည်း စည်း တော် မူ၏။
ဒဏ်ခတ်တော်မူ၍၊ လက်တော်နှင့် သက်သာ
၁၉ စေတော်မူ၏။– သင့်ကို အမှု ခြောက် ပါး ထဲက
နှုတ်ယူတော်မူသည်သာမက၊ ခုနစ်ပါးသောအ
၂၀ မှု၌ထည်းထေးတစုံတခုမျှမထိမခိုက်ရ။– အစာ
ခေါင်းပါးသော အခါ သေဘေးမှ ၎င်း၊ စစ် ထိုတ်
သော အခါ ထား ဘေး မှ ၎င်း၊ သင့် ကို ရွေး နှုတ်
၂၁ တော်မူလိမ့်မည်။–သင်သည်ကဲ့ရဲ့ခြင်းဘေးနှင့်
ကင်းလွတ်၍၊ ပျက်စီး ခြင်း ထေး ရောက် သော်
၂၂ ထည်းမကြောက်ရ။–ပျက်စီးခြင်းထေးနှင့်အစာ
ခေါင်းပါးခြင်း ထေးကို ရယ်မော၍၊ တောသား
၂၃ ရဲ့တို့ကိုလည်းမကြောက်ရ။–အကြောင်းမူကား၊
လယ်၌ ကျောက်ခဲတို့သည် သင်နှင့် ပမိုညည်ပြု
၍၊ တောသားရဲ့တို့သည် သင်နှင့် မိဿဟာယ
၂၄ ဖွဲ့ကြ လိမ့်မည်။– သင်သည် ကိုယ်အိမ်၌ ငြိမ်
သက်ခြင်း ရှိကြောင်းကို တွေ့၍၊ ကိုယ်နေရာအ
ရပ်သို့ ပြန်ရောက်သောအခါ၊ မိတ်ပျက် စရာအ
၂၅ ကြောင်းမရှိရ။– သင်၌သားသွီးများပြား၍၊ သင့်
အမျိုးအနွယ်သည် မြေပေါ်မှာမြက်ပင်နှင့်အမျှ
၂၆ ဖြစ်ကြောင်းကိုတွေ့မြင်ရလိမ့်မည်။–အချိန်တန်
လျှင် သိမ်း ယူသော ကောက် လှိုင်း ကဲ့သို့၊ သင်
သည် အသက်ကြီး ရင့်၍ သင်းချိုင်း သို့ရောက်
၂၇ ရလိမ့်မည်။– ဤအမှုကို ငါတို့သည် စစ်ဆေး၍
ထင်ရှားပြသည် အတိုင်း မှန်ပါ၏။ နား ထောင်
ပါ၊ အသင့်နှစ်လုံးသွင်းထား ပါလော့ဟုဆို၏။

၆

၁၂ ထဖန်ယောဘ်မြွက်ဆိုသည်ကား၊–ငါဝမ်း
နည်းခြင်းအကြောင်းကို သေချာစွာချိန်တွယ်ပါ
စေ၊ ငါခံရသော ဒုက္ခများကိုလည်း ချိန်ခွင်၌ ရှု
၃ ထားပါစေ။– သို့ဖြစ်လျှင်သမုဒ္ဒရာ သဲထက်သာ
၍လေးလိမ့်မည်။ ထိုကြောင့်စကားလွန်မိပြီ။–
၄ အနန္တတန်ခိုးရှင်ပြစ်တော်မူသော မြှားတို့သည်
ငါ၌စွဲ၍၊ အဆိပ် အတောက် ဖြင့် ငါ့ဉာဏ်ကို
စွန်းစေ၏။ ဘုရားသခင်ပြတော်မူသောကြောက်
မက် ဖွယ်အရာ တို့သည် ငါ့ရှေ့မှာ စီလျက် ရှိကြ
၅ ၏။– တောမြည်သည်မြက်ပင်ပေါ်သောအခါမြည်
တတ်သလော၊ နွားသည် စားစရာရှိသောအခါ
၆ အော်တတ်သလော။– မပြိန်သောအရာကိုဆား
မပါဘဲ စားနိုင်သလော၊ ကြက်ဥ အကာသည်
၇ ဆိမ့်သောအရသာရှိသလော။–ထိုအရာမျှမထို
နိုင်၊ ငါမနှစ်သက်နိုင်သောအရာကို ရွံ့လျက်နှင့်
ငါစားရ၏။
၈ ငါတောင်းသော အရာကိုရပါစေ၊ ငါတောင့်
တသော အရာကို ဘုရားသခင် ပေးသနားတော်
၉ မူပါစေ။ တောင့်တသောအရာဟူမူကား၊ဘုရား
သခင် သည် ငါ့ကို ဖျက်ဆီး တော်မူပါစေ၊ လက်
၁၀ တော်ကိုဆန့်၍ငါ့ကိုဆုံးစေတော်မူပါစေ။–ထိုသို့
ဖြစ်လျှင် ငါသည် သက်သာရ၏။ ပြင်းပြင်း သော်
လည်းသည်း ခံမည်။ ငါ့ကိုနှစ်သြောတော် မမူပါ
စေနှင့်။ သန့်ရှင်းတော်မူသောသူ၏ စကားတော်
၁၁ ကို ငါမငြင်းပယ်ဆန်ပြီ။– ငါမျှော်လင့် စရာအခွင့်
ရှိရမည်အကြောင်း၊ ငွန့်အားကား အဘယ်သို့
နည်း။ ငါသည်ကိုယ်အသက်ကိုစောင့်ရမည်အ
ကြောင်း၊ နောက်ဆုံး ခံရသောအကျိုးကား၊ အ
၁၂ ဘယ်သို့နည်း။– ငွန့်အားသည် ကျောက် ခွန်
အားဖြစ်သလော၊ ငါ့အသားသည် ကြေးဝါဖြစ်
၁၃ သလော။–ငါသည်ကိုယ်ကိုမမစနိုင်၊ ဉာဏ်
လည်းကုန်ပြီ။
၁၄ ဆင်းရဲခြင်းသို့ ရောက်သောသူ၏ အဆွေ ခင်
ပွန်းသည်သနားအပ်၏။မသနားလျှင် အနန္တတန်
ခိုး ရှင် ကို ကြောက်ရွံ့ သော သ ဘော နှင့် ကင်း

၁၅ လွတ်၏။- ငြီးအစ်ကိုတို့သည်ချောင်းရေကဲ့သို့
လှည့်စားး၍၊ ရှိနှင့်ပြီးသော ရေကဲ့သို့ ရွေ့သွား
၁၆ ကွယ်ပျောက် တတ်ကြ ၏။- ထိုချောင်းရေသည်
ရေခဲ ကြောင့်ညှိုး၊ မထင်ရှားသော မိုဃ်း ပွင့်
၁၇ ကြောင့်ညှိုး- အလွန်စီးတတ် သော်လည်း၊ နွေး
သောအခါ ကွယ်ပျောက်တတ်၏။ နေပူသောအ
၁၈ ခါ မိမိနေရာ၌ ခန်းခြောက် တတ်၏။- ထိုရေစီး
သော ချောင်းတို့သည် လွဲသွား၍၊ တခြေ တခြေ
၁၉ ကွယ်ပျောက် တတ်ကြ၏။- တေမန် အမျိုးသား
အစုအဝေးတို့သည်ရှာကြ၏။ ရှေဘပြည်မှခရီး
သွား သော သူ အစု အဝေး တို့သည် မျှော် လင့်
၂၀ လျက်ထကြ၏။- မျှော်လင့်၍ မိတ်ပျက် ကြ၏။
ထို အရပ် သို့ ရောက်သော အခါ ရှက် ကြောက်
၂၁ လျက်နေကြ၏။- ထိုအတူသင်တို့သည် အချည်း
နှီးသက်သက် ဖြစ်ကြ၏။ ငါ နှိမ့်ချခြင်းကို မြင်
၂၂ လျှင်ဆုတ်၍နေကြ၏။- ငါ့ထံသို့လက်ဆောင်ကို
ယူခဲ့ကြပါ။ သင်တို့ ပစ္စည်း ဥစ္စာထဲက ထုတ်၍
၂၃ ငါ့ကိုပေးကြပါ။- ရန်သူလက်မှ ငါ့ကိုကယ်ယူကြ
ပါ။ သူရဲ လက်မှ ရွေးနှုတ် ကြပါ ဟု ငါ ပြောသ
၂၄ လော။- ငါ့ကိုဆုံးမကြပါ။ တိတ်ဆိတ်လျက် နေပါ
မည်။ငါမှားသောအရာကိုငါ့အားပြကြပါ။-
၂၅ မှန်သော စကားသည်တန်ခိုးကြီး၏။ သင်တို့ကဲ့
ရဲ့ သော စကား သည် အဘယ် မှာ နေရာ ကျသ
၂၆ နည်း။-ငါ့စကားပြောရုံကာမျှကိုအပြစ်တင်မည်
ကြံစည် ကြသလော။ မျှော်လင့်ခြင်းမရှိသော သူ
ပြောသောစကားသည် လေသက်သက်ဖြစ်၏။-
၂၇ အကယ်၍ သင်တို့သည် မိဘမရှိသော သူငယ်
ကိုနှိပ်စက်ကြ၏။ အဆွေခင်ပွန်းတို့တွင်းကိုတူး
၂၈ ကြ၏။- ငါ့ ကို စိတ် မရှိဘဲ ကြည့်ရှု ကြပါ လော့။
၂၉ သင်တို့ရှေ့မှာငါလှည့်စားသလော။-ပြန်၍ဆင်
ခြင်ကြပါ။ မတရားသဖြင့်မပြုကြပါနှင့်။ ပြန်၍
ဆင်ခြင်ကြပါ။ ဤအမှု၌ငါသည်ဖြောင့်မတ်ပါ
၃၀ ၏။- ငါ့လျှာ၌ကောက်သောသဘောရှိသလော။
ငါသည် မြည်းစမ်း၍ အပြစ် ပါသော အရာကို
ပိုင်းခြားမသိနိုင်သလော။

၇

၁ လူတို့သည် မြေကြီးပေါ်မှာ ပင်ပန်းဆင်းရဲ အမှု
ထမ်းရသည်မဟုတ်သလော။ သူနေရသောနေ့ရက်
တို့သည် အငှါး ခံသော သူ၏ နေ့ရက် ကဲ့သို့ ဖြစ်
၂ သည် မဟုတ် လော။- ကျွန် ခံရသော သူသည်
မိုဃ်းချုပ်သော အချိန်ကို တောင့်တ၍၊ အငှါး
ခံသော သူသည် အခရမည် အချိန်ကို မျှော်လင့်
၃ သကဲ့သို့- ထိုနည်းတူငါသည် ဗျာဒေနေ့လများနှင့်
ဆိုင်ရ၏။ ပင်ပန်းစွာ ခံရသော ညဉ့်တို့ သည်
၄ ထည်း ငါ၏ အခန်း အတာ ဖြစ်၏။- အဘယ်အ
ခါမှ ညဉ့်ကုန်၍ ငါ ထရ ပါ မည် နည်းဟု၊ ငါ
သည် ညည်း တွားလျက် အိပ်ရ၏။ မိုဃ်းထင်း
သည်တိုင်အောင် ငြိမ်လျက်လူးလျက်နေရ၏။-
၅ လောက်နှင့်ရုံတို့သည်အဝတ်ကဲ့သို့ ငါ့ကိုယ်ကို
ဖုံးလွှမ်းကြ၏။ ငါ့အရေသည်ကွဲ၍ယိုလျက်ရှိ၏။-
၆ ငါ့နေ့ရက်တို့သည် ရက်ကန်း လွန်းထက် မြန်၍
၇ မျှော်လင့်ခြင်းမရှိဘဲ လွန်သွားတတ်ကြ၏။- ငါ
အသက် သည် လေသက် သက် ဖြစ် ကြောင်းကို
အောင်း မေ့ တော် မမူပါ။ နောက် တဖန် ကောင်း
၈ သောအကျိုးကို ငါမမြင်ရ။- ငါ့ကိုမြင်သော သူ
သည် နောက်တဖန် မမြင်ရ။ ကိုယ်တော်သည်
ကြည့်ရှု တော် မူသော အခါ ငါပျောက် ပါပြီ။-
၉ မိုဃ်း တိမ်သည် ပြယ်ပျောက် ကွယ်လွင့် သကဲ့
သို့၊ သင်းချိုင်းတွင်းထဲသို့ ဆင်းသော သူသည်
၁၀ နောက်တဖန်မတက်ရ။- မိမိအိမ်သို့မပြန်ရ။သူ
၏နေရင်း အရပ် သည် နောက်တဖန် သူကို မသိ
၁၁ ရ။- ထိုကြောင့် ငါသည် ကိုယ်နှုတ်ကို မချုပ်
တည်း။ စိတ်ပင်ပန်းလျက်နှင့် စကား ပြောရ၏။
အလွန်ညှိုးငယ်သောစိတ်နှင့်မြည်တမ်းရ၏။
၁၂ ငါသည် ပင်လယ် ဖြစ်သလော။ နဂါး ဖြစ်သ
လော။ ထိုသို့ ဖြစ် သော ကြောင့် ငါ့ကို အစောင့်
၁၃ ထားတော်မူရသလော။- ငါသည်အိပ်၍ သက်
သာမည်။ ငါ့ခုတင်သည်ချမ်းသာ ပေးမည်ဟု ငါ
၁၄ ဆိုလျှင်- ကိုယ်တော်သည် ကြောက်မက် ဖွယ်
သောအိပ်မက်ကို ပေးတော်မူ၏။ ညည့် ရူပါရုံ
၁၅ အားဖြင့်ငါ့ကို ထိတ်လန့်စေတော်မူ၏။- ငါသည်
ကိုယ်အကျိုးကို နှစ် ခြော သည် ထက်၊ အသက်
ချုပ်၍သေရသောအခွင့်ကိုသာ၍ တောင့်တပါ
၁၆ ၏။- ငါ သည် အား လျော့ လျက် ရှိ ၏။ အစ စည်
မပြတ် အသက် မရှင်ရာ။ ငါ့ကို တတ် ထိုင်း ရှိစေ
တော်မူပါ။ ငါ့အသက်သည်အခိုးအငွေ့ဖြစ်၏။-
၁၇ ကိုယ်တော်သည်လူကိုပမာဏပြု၍စိတ်ဖွဲ့ထမ်း
၁၈ တော် မူမည် အကြောင်း၊- လူကိုနံနက်တိုင်း အ
ကြည့် အရှုကြွလာ၍၊ ခဏခဏ စုံစမ်းတော်မူ
မည် အကြောင်း၊ လူသည် အဘယ် သို့ သောသူ
၁၉ ဖြစ်ပါသနည်း။- အဘယ်ကာလမှ ငါ့ကိုမကြည့်
မရှု၊ ရှုက် နှာဖွဲ့တော်မူမည်နည်း။ငါသည်ကိုယ်
တံတွေးကိုမျိုရသည် တိုင်အောင်၊ အဘယ်ကာ
၂၀ လမှတတ်တိုင်း ရှိစေတော်မူမည်နည်း။— လူကို

စောင့်တော်မူသောအရှင်၊ အကျွန်ုပ်အပြစ်ရှိသည့်
မှန်ပါစေတော့။ ကိုယ်တော်ဂေဟာအတယ်ချိပြု
ရပါမည်နည်း။ အကျွန်ုပ်သည်ကိုယ်ကိုကိုယ်ခံ
ရှာ ရ သည့် တိုင် အောင် အကျွန်ုပ် ကို အ တယ်
၂၁ ကြောင့်ပြစ်စရာစက်သွင်းတော်မူသနည်း။- အ
ကျွန်ုပ် ပြစ်မှားခြင်းကို အဘယ်ကြောင့်သည်းခံ
တော်မမူသနည်း။ အကျွန်ုပ်အပြစ်ကို အဘယ်
ကြောင့် မြေရှင်း တော် မမူသနည်း။ ယခုမှာအ
ကျွန်ုပ်သည်မြေမှုန့်၌အိပ်ရပါမည်။ ကိုယ်တော်
သည်နံနက်အချိန်၌ ရှာတော်မူသောအခါ၊ အ
ကျွန်ုပ်မရှိပါဟုမြွက်ဆို၏။

၈

၁ ရှုအာ အမျိုးသား ဗိလဒ် မြွက် ဆို သည်
၂ ကား။- သင်သည်အဘယ်မျှ ကာလပတ်လုံး ဤ
သို့ပြော မည်နည်း။ သင်ပြောသော စကားသည်
အဘယ်မျှကာလပတ်လုံးလေပြင်းကဲ့သို့ဖြစ်မည်
၃ နည်း။-ဘုရားသခင်သည်မတရားသဖြင့်အပြစ်
ပေးတော်မူမည်လော။ အနန္တတန်ခိုးရှင် သည်
၄ တရားကိုဖျက်တော်မူမည်လော။-သင်၏သားသမီး
တို့သည် ဘုရားသခင်ကို ပြစ်မှား သောကြောင့်၊
ပြစ်မှား စည်တွင်၊ သူတို့ကိုသုတ်သင် ပယ် ရှင်း
၅ တော် မူသော်လည်း။- သင်သည် မဆိုင်းမထင့်၊
သန့်ရှင်း ဖြောင့် မတ်သော သဘောနှင့် ဘုရား
သခင်ကိုရှာ၍၊ အနန္တတန်ခိုး ရှင် အား တောင်း
၆ ပန်လျှင်- စင်စစ်သင့်အတွက်ကိုယ်တော်သည်
ထ ပြီး လျှင်၊ သင် ၏ ဖြောင့် မတ်သော နေရာကို
၇ ကောင်းစားစေတော်မူသဖြင့်-သင်သည်အစအ
ဦး၌ငယ်သော်လည်း၊ နောက်ဆုံး၌အလွန်ကြီး
ပွားလိမ့်မည်။

၈ လွန်လေ ပြီးသော ကာလကို စစ်၍၊ ရှေးဘိုး
ဘေးတို့ ကို မေး မြန်း ခြင်း ၌ အား ထုတ် ပါ
၉ တော့။- ငါတို့သည်မနေ့က သားဖြစ်၍အလျှင်း
မသိရပါ။ မြေကြီး ပေါ်မှာ ငါတို့ နေ ရသော နေ့
၁၀ ရက်ကာလသည်အရိပ်သက်သက်ဖြစ်၏။- ထို
သူတို့မူကား၊ သင့်ကိုဆုံးမသွန်သင်၍၊ မိမိတို့စိတ်
၁၁ နှစ်လုံး ထဲက မြွက်ဆို ကြလိမ့် မည်။- ဂမာ ပင်
သည် ရွံ့မရှိဘဲကြီးပွား နိုင်သလော၊ မြစ်နားမှာ
ပေါက်သော မြက်ပင် သည် ရေမရှိဘဲ ကြီး ပွား
၁၂ နိုင်သလော။-ထိုအပင်သည်စိမ်းလျက်မရိတ်မ
ဖြတ်သော်လည်း၊ အခြားအပင်ထက်သာ၍ညှိုး
၁၃ နွမ်းတတ်၏။- ထိုသို့ ဘုရား သခင်ကို မေ့လျော့
သောသူအပေါင်းတို့သည် ဆုံးခြင်းသို့ ရောက်ရ
ကြလိမ့်မည်။ အဓမ္မလူမျှော်လင့်စရာအကြောင်း
၁၄ သည်ပျက် လိမ့်မည်။- ထိုသူမျှော်လင့်ရာ လမ်း
သည် ဖြတ် လိမ့် မည်။ ပိုးပို သော အရာ သည်
၁၅ ထည်း ပင့်ကူ မျှင်း ကဲ့သို့ ဖြစ်လိမ့်မည်။- ထိုသူ
သည်မိမိအိမ်ကိုမှီ၍ ငါမ်သည် အမှီမခံ။ ထက်
၁၆ နှင့်ကိုင်သော်လည်း မတည်စေနိုင်။- သူသည်
နေပူမှာ ပိမ်းလန်းလျက်၊ အခက် အလက်အား
၁၇ ဖြင့်မိမိဥယျာဉ်ကို နှံ့ပြားလျက်- အမြစ်အားဖြင့်
စမ်းရေတွင်းကိုပိုင်း၍၊ ကျောက်ထူသောအရပ်
၁၈ ကိုတွေ့ဖြင်လျက်ရှိသော်လည်း။- ထိုကိုသုတ်သင်
ပယ်ရှင်း၍၊ မိမိနေရာအရပ်က၊ သင်သည် ငါ မ
တွေ့မမြင်စဖူးဟူ၍၊ သူကိုငြင်းပယ်လိမ့်မည်။-
၁၉ ထိုသူ ဝမ်း မြောက်ရာထမ်းသည် ထိုသို့ ဖြစ်၍၊
သူနေရာမြေ၌အခြားသူတို့သည်ပေါက်ကြလိမ့်
၂၀ မည်။-စုံလင်သောသူကိုကား၊ ဘုရားသခင်စွန့်
ပြစ်တော် မမူ။ မတရား သဖြင့် ပြုသော သူတို့ကို
၂၁ ကား၊ မစတော်မမူ။- ရယ်မောရ သော အ ခွင့်၊
ရွှင်လန်း စွာ ကြွေးကြော်ရသော အခွင့်ကို၊ သင်၌
၂၂ ပေး ကောင်း ပေး တော် မူ မည်။- သင့် ကို ရန်း
သောသူတို့သည် ရှက်ခြင်းနှင့် ဖုံးလွှမ်းလျက်ရှိ
ရကြလိမ့်မည်။ ဆိုးသောသူ နေရာ အရပ်သည်
ထည်း၊ ဆုံး ရှုံး ခြင်းသို့ ရောက်ရ လိမ့် မည် ဟု
မြွက်ဆို၏။

၉

၁၊၂ ယောဘ ပြန်၍ မြွက်ဆိုသည်ကား။- မှန်ပါ
၏။ ထိုစကား မှန်ကြောင်းကို ငါသိ၏။ သို့သော်
လည်း၊ လူသည်ဘုရားသခင်ရှေ့တော်၌၊ အဘယ်
၃ သို့ဖြောင့်မတ်ရာသို့ရောက်နိုင်သနည်း။- ဘုရား
သခင် သည် အ ပြစ် တင် ခြင်း ၌ အ လို တော်ရှိ
လျှင်၊ လူသည်အပြစ်တထောင်တွင် တခုကိုမျှမ
၄ ဖြေ နိုင်။- ဘုရား သခင် သည် ထူး ဆန်း သော
ညာဏ်၊ ကြီးစွာသောတန်ခိုးနှင့်ပြည့်စုံတော်မူ
သည်ဖြစ်၍၊ အဘယ်သူသည်အာဏာတော်ကို
၅ ဆန်၍အောင်နိုင်သနည်း။- ဘုရားသခင်သည်
တောင်တို့ကိုအမှတ်တမဲ့ရွှေ့တော်မူ၏။ အမျက်
၆ ထွက်၍ မှောက်လှန် တော်မူ၏။- မြေကြီးကိုရွေ့
စေခြင်း၌ါတွန်းတော်မူ၍၊ မြေတိုင်တို့သည်တုန်
၇ လှုပ်ကြ၏။- နေကိုမှာထား တော်မူ၍ သူသည်မ
ထွက်ရ။ ကြယ်တို့ကိုလည်း ကွယ်ထားတော်မူ
၈ ၏။- မိုဃ်း ကောင်းကင် ကို ကိုယ်တော် တပါး
တည်းဖြန့်မိုးတော်မူ၏။ သမုဒ္ဒရာလှိုင်းတံပိုးကို
၉ နင်းတော်မူ၏။- အာရှကြယ်၊ ခသိလကြယ်၊ မိမ

ကြယ်စုမှစ၍၊ တောင်မျက်နှာ ကြယ်တိုက်တို့
၁၀ ကိုဖန်ဆင်းတော်မူ၏။- စစ်၍မသိနိုင်သောအ
လွန်ကြီးသောအမှု၊ မရေတွက်နိုင်သောင်မှား
၁၁ ၍ အံ့ဘွယ်သောအမှုတို့ကို ပြုတော်မူ၏။- ငါ့ရှေ့
မှာကြွတော်မူ၍၊ ကိုယ်တော်ကိုငါ မမြင်ရ။
ရှောက်သွားတော်မူ၍၊ကိုယ်တော်ကိုငါမရိပ်မိ
၁၂ ရ။-သိမ်းယူတော်မူသောအခါအဘယ်သူသည်
ဆီးတားနိုင်သနည်း။ကိုယ်တော်သည်အဘယ်
သို့ပြုသနည်းဟု အဘယ်သူဆိုဝံ့သနည်း။-
၁၃ ဘုရားသခင်သည်အမျက်ပြေတော်မမူလျှင်၊မာ
နကြီး၍ အားပေးသောသူတို့သည်၊ ရှေ့တော်၌
၁၄ နှိမ့်ချခြင်းကို ခံရကြ၏။- ထိုမျှမက၊ ငါသည်အ
ဘယ်သို့ပြန်လျှောက်ရအံ့နည်း။ ရှေ့တော်၌အ
ဘယ်သို့သော စကားကိုရွေး၍ လျှောက်ရအံ့
၁၅ နည်း။- ငါသည်ဖြောင့်မတ်သော်လည်း၊ ပြန်၍
မလျှောက်ဝံ့ဘဲ၊ တရားမှုကို ဆုံးဖြတ်တော်မူ
၁၆ သော အရှင်ကိုတောင်းပန်ရုံမျှသာပြုရ၏။- ငါ
ခေါ်၍ အရှင်သည် ထူးတော်မူသော်လည်း၊ င
စကားကို နားထောင်တော်မူမည်ဟု ငါမယုံ
၁၇ နိုင်။- အကြောင်းမူကား၊မိုဃ်းသက်မုန်တိုင်း
ဖြင့် ငါ့ကိုညှဥ်းဆဲ၍၊ အကြောင်းမရှိဘဲငါ၌အ
၁၈ နာတို့ကို များပြားစေတော်မူ၏။- ငါ့ကိုအသက်
ရှူရသော အခွင့်မပေး။ ခါးစွာသောဝေဒနာ
၁၉ နှင့်ပြည့်စုံစေတော်မူ၏။-တန်ခိုးကိုအမှီပြုမည်
ဆိုသော်၊ ဘုရားသခင်သည်တန်ခိုးကြီးတော်မူ
၏။ တရားကိုအမှီပြုမည် ဆိုပြန်သော်၊ အဘယ်
၂၀ သူသည်ငါ့ဘက်၌သက်သေခံမည်နည်း။- ကိုယ်
အပြစ်ကို ပြေစေခြင်းငှါ ပြုလျှင်၊ ကိုယ်စကား
အားဖြင့် တရားရှုံးလိမ့်မည်။ ငါသည်စုံလင်ပြီ
ဟုဆိုပြန်လျှင်၊ ငါ့သဘောကောက်ကြောင်းထင်
၂၁ ရှားလိမ့်မည်။- တဖန်စုံလင်သော်လည်း၊ကိုယ်
စိတ်သဘောကိုကိုယ်မသိရ။ ကိုယ်အသက်ကို
ပမာဏမပြုရ။
၂၂ ငါပြောအံ့သောစကား တချက်ဟူမူကား၊
ဘုရားသခင်သည်စုံလင်သောသူတို့ကိုငှင်၊ ဆိုး
ညစ်သောသူတို့ကိုငှင်ဖျက်ဆီးတော်မူတတ်၏။-
၂၃ ချက်ချင်းဘေးတစုံတခု ရောက်သောအခါ၊ အ
ပြစ်မရှိသောသူ ခံရသည်အကြောင်းကို ရယ်
၂၄ တော်မူ၏။- မြေကြီးကို လူဆိုးလက်၌ အပ်၍၊
တရားသူကြီးတို့၏ မျက်နှာကို ဖျက်တော်မူ၏။
သို့မဟုတ်၊ ထိုအမှုကို စီရင်သောသူကား၊ အ
ဘယ်သူနည်း။
၂၅ တမြို့မှတမြို့သို့ စာပို့သောလုလင်ထက်၊ ငါ့နေ့
ရက်တို့သည် လျင်မြန်၍၊ ကောင်းကျိုးကို မခံရ
၂၆ ဘဲပြေးတတ်ကြ၏။- လျင်မြန်သောသင်္ဘောကဲ့
သို့၎င်၊ အကောင်ကို သုတ်လာသောရွှေလင်းတ
၂၇ ကဲ့သို့၎င် လွန်သွားတတ်ကြ၏။- ငါသည်မြည်
တမ်းသောစကားကို ဖြတ်၍၊ ရွှင်လန်းသော
မျက်နှာကို ဆောင်လျက်၊ ရဲရင့်ခြင်းသို့ ရောက်
၂၈ မည်ဟုငါဆိုသော်လည်း- ငါခံရသောဒုက္ခဝေ
ဒနာများသော့ကြောင့်၊ကြောက်သောသဘောရှိ
၏။အပြစ်လွတ်စေဟုငါ၌စီရင်တော်မမူကြောင်း
၂၉ ကိုငါသိ၏။- ငါသည် အပြစ်သင့်ရောက်သည်
ဖြစ်၍၊ အဘယ်ကြောင့် အချည်းနှီးကြိုးစားရ
၃၀ မည်နည်း။- ငါ့ကိုယ်ကိုမိုဃ်းပွင့်ရေနှင့်ဆေး၍၊
၃၁ ငါ့လက်ကိုရှင်းရှင်းစင်ကြယ်စေသော်လည်း-နွံ
ထဲသို့တွန်းချတော်မူ၍၊ ငါ့အဝတ်ပင်ငါ့ကိုယ်ကို
၃၂ ရွံလိမ့်မည်။- ငါသည်ဘုရားသခင်၏ စကားကို
တဦးနှင့် တဦးတရားတွေ့နိုင်မည်အကြောင်း၊
ဘုရားသခင်သည် ငါကဲ့သို့လူဖြစ်တော်မူသည်
၃၃ မဟုတ်။- ငါတို့နှစ်ဦးကို ဆီးတားပိုင်သောစပ်
၃၄ ကြားနေအမှုဆောင့်မရှိ။- ငါ့ကိုဒဏ်ခတ်တော်မ
မူပါစေနှင့်။ ပြုတော်မူသော ဘေးကြောင့် ငါမ
၃၅ ကြောက်ပါစေနှင့်။- သို့ဖြစ်လျှင်၊ ငါသည်မ
ကြောက်ဘဲပြောရသောအခွင့်ရှိလိမ့်မည်။ယခု
မူကား၊ပြောရသောအခွင့်ကိုမရ။

၁၀

၁ ငါ့ဝိညာဉ်သည် အသက်ကို ငြီးငွေ့၏။ မြည်
တမ်းသောအပြစ်ကို ခံရမည်။ စိတ်အလွန်ညှိုး
၂ ငယ်၍ပြောရမည်။- ဘုရားသခင်ကိုလျှောက်ရ
သောစကားဟူမူကား၊အကျွန်ုပ်ကိုအပြစ်စီရင်
တော်မမူပါနှင့်။ အကျွန်ုပ်နှင့်ဆန့်ကျင်ဘက်ပြု
၃ တော်မူမည်အကြောင်းကိုပြတော်မူပါ။- ကိုယ်
တော်သည်ညှဥ်းဆဲတော်မူသင့်သလော။ကိုယ်
တိုင်ဖန်ဆင်းသောအရာကို ရွံရှာ၍၊လူဆိုးတို့၏
အကြံအစည်ကိုကောင်းကြီးပေးတော်မူသင့်သ
၄ လော။- ကိုယ်တော်သည် ရုပ်မျက်စိ ရှိတော်မူ
သလော။ လူမြင်သည် နည်းတူ မြင်တော်မူသ
၅ လော။- ကိုယ်တော်၏နေ့ရက် တို့သည် လူနေ့
ရက်ကဲ့သို့ဖြစ်ပါသလော။ ကိုယ်တော်၏ နှစ်တို့
သည် လူယောက်ျား နေ့ရက် ကဲ့သို့ ဖြစ်ပါသ
၆ လော။-အကျွန်ုပ်ပြုသောဒုစရိုက်ကိုစစ်၍အပြစ်
ကိုတွေ့ခြင်းငှါ၊ အဘယ်ကြောင့် ရှာတော်မူသ
၇ နည်း။- အကျွန်ုပ်သည် လူဆိုးမဟုတ် ကြောင်း

နှင့်၊ လက်တော်မှအဘယ်သူမျှ မကယ်မနှုတ်
၈ နိုင်ကြောင်းကိုသိတော်မူ၏။-အကျွန်ုပ်တကိုယ်
လုံးကိုလက်တော်နှင့် ဆေးစပ်လျှာဖန်ဆင်းတော်
မူသည်ဖြစ်၍၊ ယခုဖျက်ဆီးတော်မူမည်လော။-
၉ အရွတ်ကိုလုပ်သကဲ့သို့အကျွန်ုပ်ကိုလုပ်တော်မူ
ကြောင်းကိုအောက်မေ့တော်မူပါ။တဖန်မြေမှုန့်
၁၀ ဖြစ်စေတော်မူမည်လော။- အကျွန်ုပ်ကိုနို့ကဲ့သို့
သွန်းလောင်း၍၊ ဒိန်ခဲကဲ့သို့ ခဲစေတော်မူပြီမ
၁၁ ထုတ်လော။- အရေအသားဖြင့် ဖုံးလွှမ်း၍၊ အ
၁၂ ရိုးနှင့် အကြောတို့ဖြင့် ခိုင်ခံ့စေတော်မူပြီ။- အ
သက်ရှင်ရသော အကြောင်းနှင့်တကွ ကျေးဇူး
များကိုပြုတော်မူပြီ။ ကြည့်ရှုပြုစုခြင်းကျေးဇူး
တော်သည်လည်း အကျွန်ုပ်၏ ဝိညာဉ်ကို မစပါ
၁၃ ပြီ။- ယခုရောက်သောအမှုတို့ကိုလည်း၊ နှလုံး
တော်၌သိုထား၍ကြံစည်တော်မူသည်နှင့်အညီ
၁၄ ရောက်ကြောင်းကိုအကျွန်ုပ်သိပါ၏။-အကျွန်ုပ်
သည်ပြစ်မှားလျှင်၊ ကိုယ်တော် မှတ်တော်မူ၏၊
အကျွန်ုပ် အပြစ်ကို လွှတ်တော် မူမည်မဟုတ်။-
၁၅ အကျွန်ုပ်သည် ဆိုးညစ်လျှင် အမင်္ဂလာရှိပါ၏၊
ဖြောင့်မတ်သော်လည်း၊ ကိုယ်မျက်နှာကို မပြ
ရဲ၊ ကိုယ်ခံရသောဒုက္ခဆင်းရဲကိုဆင်ခြင်၍၊ မိန်း
၁၆ မောတွေဝေလျက်နေရပါ၏။-အကျွန်ုပ်ထလျှင်၊
ကိုယ်တော်သည် ခြင်္သေ့ကဲ့သို့ အကျွန်ုပ်အပေါ်
သို့စုန်၍၊ ကြောက်မက်ဖွယ်သော အခြင်းအရာ
၁၇ တို့ကိုပြတော်မူ၏။-အကျွန်ုပ်တဘက်၌သက်သေ
ခံတော်မူချက်များ ပြား၍၊ အမျက်တော်ကိုတိုး
ပွားစေခြင်းငှါ ပြုတော်မူသဖြင့်၊ အကျွန်ုပ်တ
ဘက်၌ရန်စစ်တို့သည် အထပ်ထပ်ထကြပါ၏။-
၁၈ အကျွန်ုပ်ကို အမိဝမ်းထဲက အဘယ်ကြောင့်
ဆောင်ခဲ့တော်မူသနည်း။ ထိုသို့ပြုတော်မမူလျှင်၊
အကျွန်ုပ်သည် အသက်မရှိ၊ အဘယ်သူမျှ အ
၁၉ ကျွန်ုပ်ကိုမမြင်ရပါ။- ထိုသို့အကျွန်ုပ်သည်မဖြစ်
သကဲ့သို့ဖြစ်၍၊ အကျွန်ုပ်ကို အမိဝမ်းထဲမှသင်း
၂၀ ချိုင်းသို့ ဆောင်မှီ ရကြ၏။- အကျွန်ုပ်နေ့ရက်
၂၁ တို့သည်နည်းပါသည်မဟုတ်လော။ မှောင်မိုက်
၂၂ နှင့် သေခြင်းအရိပ် ဖုံးလွှမ်းသော ပြည်၊ သေ
ခြင်းအရိပ် ဖြစ်စေသော ညည့်ကဲ့သို့၊ တခဲနက်
မိုက်သဖြင့်၊ အထင်းပင်မှောင်မိုက် သက်သက်
ဖြစ်၍၊ ရှင်းထင်းခြင်း အလျှင်း မရှိသော ပြည်၊
အကျွန်ုပ်တခါရောက်ပြီးမှ၊ တဖန်ပြန်၍မလာရ
သောပြည်သို့အကျွန်ုပ်သွား၍မရောက်မှီ၊သက်
သာခြင်း အနည်းငယ် ရှိပါမည်အကြောင်း၊ အ
တော်မူပါ၊ အကျွန်ုပ်ကိုတတ်ထိုင်းမှိုင်းစေတော်မူ
ပါဟုမြွက်ဆို၏။

၁၁

၁ နေမတ် အမျိုးသား ဇောဖာ မြွက်ဆိုသည်
၂ ကား၊- စကားများ၍ အကျိုးရှိသည် မဟုတ်။
နှုတ်သီးကောင်းသောသူသည် မိမိ အပြစ်နှင့်
၃ လွတ်ရမည်လော။- သင်ပြောသောရုသာစကား
ကြောင့်၊ သူတပါးတို့သည် တိတ်ဆိတ်စွာ နေရ
မည်လော။ သင်ကဲ့ရဲ့သောအခါ အဘယ်သူ
၄ သည် အရှက်မကွဲဘဲ နေရမည်နည်း။- သင်က၊
ငါ့စကားဖြောင့်၏၊ ဘုရားသခင် ရှေ့တော်၌ ငါ
၅ သန့်ရှင်း၏ဟုဆိုမိပြီ။- ဘုရားသခင်မိန့်တော်မူ
ပါစေ။ သင့်တဘက်၌ နှုတ်တော်ကိုဖွင့်တော်မူ
၆ ပါစေ။-နက်နဲသောပညာအရာတည်းဟူသော၊
သင်နားလည် နိုင်သည်ထက်၊ နှစ်ဆသာသော
အရာတို့ကို သင့်အား ပြတော်မူပါစေ။ ထိုသို့ပြု
တော်မူလျှင်၊ သင်သည် အပြစ် ခံထိုက်သည် အ
တိုင်း၊ အပြစ်ပေးတော်မမူကြောင်းကိုသိရလိမ့်
မည်။
၇ သင်သည်ဘုရားသခင်၏ ဂါတိတော်ကိုစစ်၍
တွေ့နိုင်သလော။ အနန္တတန်ခိုးရှင်၏ ဂါတိကို
စစ်၍၊ အကုန်အစင် နားလည် နိုင်သလော။-
၈ မိုဃ်းကောင်းကင်ကို မှီသည်ဖြစ်၍၊ သင်သည်
အဘယ်သို့ ပြုနိုင်သနည်း။ မရဏာနိုင်ငံထက်
နက်သည်ဖြစ်၍၊ သင်သည် အဘယ်သို့ သိနိုင်
၉ သနည်း။- အတိုင်းအရှည်သည်မြေကြီးကိုလွန်
လျက်၊ သမုဒ္ဒရာထက်သာ၍ကျယ်ဝန်းလျက်ရှိ
၁၀ ၏။- ဘုရားသခင်သည်ဖမ်းဆီးချုပ်ထား၍စစ်
ကြောတော်မူလျှင်၊ အဘယ်သူဆီးတားနိုင်သ
၁၁ နည်း။- ဘုရားသခင်သည် ဆိုးသောသူတို့၏သ
ဘောကိုသိတော်မူ၏။ သူတို့အမှတ်တမဲ့ပြုသော
၁၂ ဒုစရိုက်ကို သိမြင်တော်မူ၏။- သို့သော်လည်း၊
ရိုင်းသော မြည်းကလေး သည် လူအဖြစ်သို့ရောက်
သောအခါ၊ လူမိုက် သည် ပညာ သတိ ရလိမ့်
မည်။
၁၃ သင်သည်စိတ်နှလုံးကိုပြင်ဆင်၍၊ လက်ဆို
၁၄ ကို ဘုရားသခင်ထံတော်သို့ ဆန့်လျှင်၎င်း- သင်
ပြုသောဒုစရိုက်ကိုပယ်၍၊ သင့်ထိမ်၌ ဆိုးညစ်
၁၅ သောအမှုကိုလက်မခံလျှင်၎င်း- အညစ်အကြေး
နှင့်ကင်းလွတ်သောမျက်နှာကိုပြရလိမ့်မည်။ စိုး
ရိမ်စရာအကြောင်းမရှိ၊ တည်ကြည်လိမ့်မည်။-
၁၆ ခံပြီးသော ဒုက္ခဆင်းရဲကို မေ့လျော့ လိမ့်မည်။

လွန်သွားပြီးသော ရေကိုကဲ့သို့ အောက်မေ့လိမ့်
၁၇ မည်။— သင်၏အသက်သည် မွန်းတည့်အချိန်
ထက်လွန်၍ထွန်းလိမ့်မည်။ ယခုမှောင်မိုက်သော်
၁၈ လည်း၊ နံနက်ကဲ့သို့ထွန်းလိမ့်မည်။— မျှော်လင့်
စရာ ရှိသေးသောကြောင့် မစိုးရိမ်ဘဲ နေလိမ့်မည်။
အစဉ် အရှုံးခံရသော်လည်း၊ လုံခြုံစွာ ငြိမ်ဝပ်
၁၉ လိမ့်မည်။— အိပ်သော အခါ အဘယ် သူမျှ မ
ခြောက်မလှန့်ရ။ လူများတို့သည်သင့်ကိုတောင်း
၂၀ ပန်ကြလိမ့်မည်။— ဆိုးသော သူတို့၏ မျက်စိ
သည် အားလျော့လိမ့်မည်။ သူတို့သည်ပြေး၍
မလွတ်ရကြ။ သူတို့မျှော်လင့်စရာ အကြောင်း
သည် အမိုက်အမဲ့ထွက်သက်ဖြစ်သည်ဟု မြွက်
ဆို၏။

၁၂

၁၊၂ ယောဘ ပြန်၍ မြွက်ဆိုသည်ကား၊— သင်
တို့သာလျှင် လူဖြစ်၍၊ သင်တို့နှင့်အတူ ဉာဏ်
၃ ပညာသေလိမ့်မည်ဟု၊ ထုံမှားစရာမရှိရ။— သို့
သော်လည်း၊ ငါသည်သင်တို့ကဲ့သို့ဉာဏ်ရှိ၏။
သင်တို့ထက် ငါယုတ်ညံ့သည်မဟုတ်။ ဤကဲ့သို့
သောအရာများကို အဘယ်သူသည် နားမလည်
၄ ဘဲနေသနည်း။— ငါသည်ဘုရားသခင်၏ကျေးဇူး
တော်ကိုခံရဖူးသော်၊ ဆုတောင်းပဌနာပြုစဉ်
တွင်၊ အိမ်နီးချင်းပြက်ရယ်ပြုသည်ကိုခံရသော
သူဖြစ်၏။ အပြစ်မရှိ၊ ဖြောင့်မတ်သောသူသည်
၅ ပြက်ရယ်ပြုခြင်းကို ခံရပါသည်တကား။— ချော်
လဲလုသောသူကို၊ ဖြစ်လိုက်သော မီးခွက်ကဲ့သို့
၆ ကောင်းစားသော သူသည်မှတ်တတ်၏။— ထား
မြလုယက်သော သူတို့၏ နေရာ သည် ကောင်းစား
တတ်၏။ ဘုရားသခင်၏ အာဏာ တော်ကို ဆန့်
သောသူတို့ သည် လုံခြုံစွာ နေ၍၊ ဘုရား သခင်
ပေးတော်မူသော စည်းစိမ်ကိုခံစားတတ်ကြ၏။—
၇ သားရဲနှင့် မိုဃ်းကောင်းကင် ငှက်တို့ကိုမေး
မြန်းလော့။ သူတို့သည်ဟောပြော သွန်သင်ကြ
၈ လိမ့်မည်။— မြေကြီးနှင့် ပင်လယ်ငါးတို့ကိုမေး
မြန်းလော့။ သူတို့သည်ပြသ၍၊ ဥပဒေသပေးကြ
၉ လိမ့်မည်။— ဤအမှု တို့ကို ထာဝရ ဘုရား၊ စီရင်
တော်မူကြောင်းကို၊ ထိုတိရစ္ဆာန်တကောင်မျှမ
၁၀ သိဘဲနေသလော။— အသက်ရှင်သော သတ္တဝါ
အပေါင်းတို့၏ ဇီဝအသက်နှင့်၊ လူသတ္တဝါခပ်
သိမ်း တို့ ၏ ထွက် သက် ဝင် သက် သည် ဘုရား
သခင်လက်တော်၌ရှိ၏။
၁၁ ခံတွင်းသည်အစာကို မြည်းစမ်းသကဲ့သို့၊ နား
၁၂ သည်စကားကို စမ်းစစ်သည် မဟုတ်လော။— အ
သက် အရွယ်ကြီး သော သူတို့ သည် ဉာဏ်
၁၃ ပညာနှင့် ပြည့်စုံကြ၏။— ဘုရား သခင် မူကား၊
ဉာဏ်သတ္တိ၊ အစွမ်းသတ္တိနှင့် ပြည့်စုံ တော်မူ
၏။ ပညာသတ္တိကိုပေးနိုင်သော အခွင့် ရှိတော်မူ
၁၄ ၏။— ဖြိုဖျက် တော် မူလျှင်၊ အဘယ် သူမျှ တည်
ဆောက်ရသောအခွင့်မရှိ။ လူကိုချုပ်ထားတော်
မူလျှင်၊ အဘယ်သူမျှ လွှတ်ရသော အခွင့်မရှိ။—
၁၅ ရေများကို ဆီးတား ပိတ်ပင် တော် မူလျှင်၊ ခန်း
ခြောက် ရ၏။ တဖန် လွှတ် တော်မူ၍ မြေကြီးကို
၁၆ လွှမ်းမိုးကြ၏။— တန်ခိုးတော်၊ ဉာဏ်တော်နှင့်
ပြည့်စုံ၍၊ မှားသောသူနှင့်မှားစေသောသူတို့ကို
၁၇ ပိုင်တော်မူ၏။— တိုင်ပင် မှူးမတ် တို့ကို ဖမ်း ဆီး
သိမ်း သွား တော်မူ၏။ တရား သူကြီး တို့ကိုရူး
၁၈ သွပ်စေတော်မူ၏။— ရှင်ဘုရင်တို့ကို အရာမှချ၍၊
၁၉ ခါးကြိုးနှင့် စည်းတော်မူ၏။— ယဇ် ပုရောဟိတ်
တို့ကိုဖမ်းဆီး သိမ်း သွား၍၊ သူရဲ တို့ကို လှည်း
၂၀ ရှုံးစေတော်မူ၏။— နှုတ်သတ္တိ ရှိသော သူတို့ကို
စကား အ စေ၍၊ အသက်ကြီးသောသူတို့မှ ပညာ
၂၁ ကိုနှုတ်တော်မူ၏။— မင်းသားတို့ကိုအရှက်ခွဲ၍၊
၂၂ အားကြီးသောသူတို့ကို ရှုတ်ချတော်မူ၏။— မှောင်
မိုက်ထဲ၌ နက်နဲသောအရာတို့ကိုထင်ရှားစေ၍၊
သေ ခြင်း အရိပ် ကို အလင်း သို့ ထုတ် ဆောင်
၂၃ တော် မူ၏။— တိုင်း နိုင်ငံ တို့ကို ပွား စေ၍၊ တ
ဖန်ဖျက်ဆီးတော်မူ၏။ တိုင်းနိုင်ငံတို့ကိုကျယ်စေ
ခြင်းငှါ၎င်း၊ ကျဉ်းစေခြင်းငှါ၎င်းပြုတော်မူ၏။—
၂၄ မြေ သား တို့ တွင်၊ အ ကြီး လုပ် သော သူ တို့ မှ
ဉာဏ် ကိုနှုတ်၍၊ လမ်းမရှိသောတော၌လှည့်
၂၅ လည် စေတော် မူ၏။— သူ တို့သည် အလင်းမရှိ၊
မှောင်မိုက်၌ စမ်းသပ်လျက် သွားရကြ၏။ ယစ်
မူး သော သူ ကဲ့ သို့ ယိမ်း ယိမ်း လျက် သွား စေ
တော်မူ၏။

၁၃

၁ ထိုအမှုအရာအလုံးစုံတို့ကို ငါ့မျက်စိသည်မြင်
၂ ပြီ၊ နားသည်လည်းကြား၍ နားလည်ပြီ။— သင်
တို့ သိသမျှကို ငါသိ၏။ သင်တို့ထက် ငါယုတ်ညံ့
၃ သည်မဟုတ်။— အနန္တတန်ခိုးရှင်အား ငါလျှောက်
ရသောအခွင့်၊ ဘုရား သခင်နှင့် ငါဆွေးနွေးရ
၄ သော အခွင့် ရှိပါစေသော။— သင်တို့ သည် အ
ယောက်မျှမကြွင်း၊ မုသာကိုပြုစုသောသူ၊ အ
၅ သုံး မရ သော ဆေး သမား ဖြစ် ကြ၏။— သင်တို့
သည် စကားတခွန်းကိုမျှ မပြောဘဲ ငြိမ်ဆိတ်

ဆိတ်ဆိတ်နေကြပါစေ။ ထိုသို့နေလျှင်၊ စင်စစ် ပညာရှိကဲ့
သို့ဖြစ်ကြလိမ့်မည်။
၆ ငါပြောမည်အကျိုးအကြောင်းစကားကိုနား
ထောင်ကြပါလော့။ ငါ့နှုတ်နှင့်ဆွေးနွေးငြင်းခုံ
၇ မည်စကားကို နှစ်လုံးသွင်းကြ ပါလော့။- သင်
တို့သည်လျှစ်လျူသောစိတ်မရှိဘဲဘုရားသခင်
ထက်၌ ပြောချင် သလော။ ဘုရားသခင် ထက်၌
၈ နေ၍ ရုသာကိုသုံးချင် သလော။- မျက်နှာတော်
ကိုထောက်လျက်သာ၊ ဘုရားသခင်ထက်၌နေ၍
၉ ငြင်းခုံ စစ်တိုက် ချင် သလော။- သင်တို့ကိုကြပ်
တည်းစွာ စစ်တော်မူလျှင်၊ သင်တို့၌ ကျေးဇူးရှိ
လိမ့်မည်လော။ လူကိုလှည့်စားသကဲ့သို့ ဘုရား
၁၀ သခင်ကိုလှည့်စားနိုင်သလော။- သင်တို့သည်
လျှို့ဝှက်၍ သူမျက်နှာကို ထောက် လျှင်၊ စင်စစ်
၁၁ သင်တို့ကို ဆုံးမတော်မူမည်။- သင်တို့သည်တန်
ခိုးအာနုဘော် တော်ကြောင့် မကြောက် ကြသ
လော။ ကြောက် မက် ဖွယ် သော ဂုဏ် တော်
၁၂ ကြောင့်၊ မထိတ်လန့် ကြ သလော။- သင် တို့၏
နည်း ဥပဒေသစကားသည် မြေမှုန့်ထက်သာ၍
ပေါ့၏။ သင်တို့ ခိုလှုံ သောမြို့ရိုးသည်ထည်း ဘ
၁၃ ရွှံ့တံ မြို့ရိုး ကဲ့သို့ ဖြစ်၏။- တိတ်ဆိတ်စွာ နေ၍၊
ငါ ပြောပါရစေ။ သို့ပြီးမှ အမှု ရောက်ချင် ထိုင်း
၁၄ ရောက် ပါ လေ စေ။- သို့သော် ထည်း၊ ငါသည်
ကိုယ်အသားကို ပစပ်နှင့် ကိုက် ချီလျက်၊ ကိုယ်
အသက် ကို ထည်း လက်နှင့် ကိုင်လျက် ဆောင်
၁၅ သွားမည်။- ငါ့ကို သတ်တော်မူ၍၊ ငါ မျှော်လင့်
စရာ မရှိ သော်ထည်း၊ ရှေ့တော်၌ ကိုယ် အပြစ်
၁၆ ဖြေရာစကားကို ငါလျှောက်ထားမည်။- ထိုသို့
ပြုလျှင် ငါ၏ကယ်တင်ရာ အကြောင်း ဖြစ်လိမ့်
၁၇ မည်။ အဓမ္မလူ သည်အထံတော်သို့မဝင်ရ။- ငါ
စကားကိုစေ့စေ့ မှတ်ကြလော့။ ငါလျှောက်ထား
၁၈ ချက်ကို နားထောင်ကြလော့၊- လရုငအမှုကိုငါ
ပြင်ဆင်ပြီ။ ငါ၌အပြစ် လွတ်ခြင်း ထင်ရှား မည်
၁၉ ဟုငါသိ၏။- ငါ့အပြစ်ကိုဖော်ပြမည်သူကား၊ အ
ဘယ်သူနည်း။ ထိုသို့ဖော်ပြလျှင်၊ ငါသည်တိတ်
ဆိတ်စွာနေ၍အသေခံပါမည်။
၂၀ ဒါဏ်ခတ် ခြင်း နှစ်ပါး ကိုသာ လျှော့ တော်မူ
ပါ။ထိုသို့လျှော့လျှင်ကိုယ်တော်ကိုမရှောင်ပါ။-
၂၁ လက် တော်ကို သိမ်းတော် မူပါ။ ကြောက် မက်
ဖွယ် သော အ ခြင်း အ ရာ တော် အား ဖြင့်၊ အ
၂၂ ကျွန်ုပ်ကို ခြောက်တော်မမူပါနှင့်။- ထိုအခါခေါ်
တော်မူပါ။ အကျွန်ုပ်ပြန်လျှောက်ပါမည်။ သို့မ
ဟုတ်၊ အကျွန်ုပ်သည် အရင် လျှောက် ပါ မည်။
၂၃ ကိုယ်တော် အမိန့်ရှိတော်မူပါ။- အကျွန်ုပ်ဂုမ်
သောဒုစရိုက်အပြစ်တို့သည် အဘယ်မျှလောက်
များပါသနည်း။အကျွန်ုပ်ပြစ်မှားသွန်ကျူးခြင်း
၂၄ အပြစ်တို့ကိုအကျွန်ုပ်အားပြတော်မူပါ။- ကိုယ်
တော် သည် မျက် နှာ တော် ကို ဖွဲ့ ၍၊ အ ဘယ်
ကြောင့် အကျွန်ုပ်ကိုရန်သူကဲ့သို့ မှတ်တော်မူသ
၂၅ နည်း။-လေတိုက်သောသစ်ရွက်ကိုခြောက်လှန့်
တော် မူ မည် လော။ ခြောက် ခြောက် ကို မှီ အောင်
၂၆ လိုက်တော်မူမည်လော။-အကျွန်ုပ်၌ခြင်းစွာအ
ပြစ်တင်သော စကား ကိုမှတ်ထား တော်မူ၏။ အ
ကျွန်ုပ်အသက် ငယ်စဉ်တွင်၊ ပြုမိသောအပြစ်
၂၇ ကြောင့် လခုခံစေတော်မူ၏။- အကျွန်ုပ်ကို ထိတ်
ခတ် လျက်၊ အကျွန်ုပ် ထွက်ရာ လမ်း ရှိသမျှ ကို
စောင့် လျက် နေ၍၊ အကျွန်ုပ် ပတ်လည်၌ စည်း
၂၈ ထုပ် တော်မူ ၏။- ထိုသို့ခံရသော သူသည် ဆွေး
မြေ့သောအရာကဲ့သို့၎င်း၊ ပိုးရွကိုက်စားသောအ
ဝတ်ကဲ့သို့၎င်းအားလျော့ပျက်ရပါ၏။

၁၄

၁ လူ သည်မိန်းမဖွားသောသူဖြစ်သဖြင့်၊ အသက်
၂ တို၍ ဒုက္ခနှင့်ပြည့် စုံပါ၏။ ပန်းပွင့်ကဲ့သို့ ပွင့်၍
ရိတ်ဖြတ်ခြင်းကိုခံရပါ၏။မတည်မရပ်ဘဲအရိပ်
၃ ကဲ့သို့ ရွေ့သွား တတ် ပါ ၏။- ထိုသို့သော သူကို
ကိုယ်တော်ကြည့်ရှုတော်မူသလော။အကျွန်ုပ်
၄ နှင့်ဖက်၍တရားတွေ့တော်မူမည်လော။-မသန့်
ရှင်းသောအရာထဲက သန့်ရှင်းသောအရာကိုအ
ဘယ်သူထုတ်ဖော် နိုင်သနည်း။အဘယ်သူမျှမ
၅ ထုတ်မဖော် နိုင် ပါ။-လူ၏နေ့ရက်တို့ကိုမှတ်သား
၍၊သူနေရသောလအရေအတွက်ကိုကိုယ်တော်
သည် သိသဖြင့်၊ သူမလွန် နိုင် သော အပိုင်း အ
၆ ခြားကိုထားတော်မူသောကြောင့်-မျက်စိတော်
ကိုလွှဲ၍၊လူသည်သူငှါးကဲ့သို့မိမိနေ့ရက်ကိုလွန်
စေသည် တိုင်အောင်၊ ငြိမ်ဝပ် ရသော အခွင့်ကို
၇ ပေးတော် မူပါ။- သစ်ပင်ကို ခုတ်သော်ထည်း၊
အငုတ်အချည်းစည်းမရှိဘဲ၊အတက်ပေါက်လေ
၈ ဦးမည်ဟုမျှော်လင့်စရာရှိ၏။-မြေထဲမှာအမြစ်
ဟောင်း၍၊ မြေပေါ်မှာအငုတ်သေသော်ထည်း-
၉ ရေငွေ့ကြောင့် အတက် ပေါက် ၍၊ ပျိုးပင်ကဲ့သို့
၁၀ အညွန့်ထိုနှင့်ပြည့်စုံလိမ့်မည်။- လူမူကား၊သေ
၍ ဆွေးမြေ့ တတ်၏။ လူသည် အသက် ချုပ်ပြီး
၁၁ လျှင်အဘယ်မှာရှိသနည်း။- အိုင်ရေဖြတ်သကဲ့
၁၂ သို့၎င်း၊မြစ်ရေခန်းခြောက်သကဲ့သို့၎င်း- လူသည်

အစ်ပြီးမှ နောင်တစ်ခန် တရေး မိုးဆီး ကောင်း
ထင်မကုန်မဆုံးမှီတိုင်အောင်မနိုးရ။ အအိပ်အ
ပျော်မပျက်ရ။
၁၃ ကိုယ်တော်သည်အကျွန်ုပ်ကိုသင်းချိုင်းတွင်း
၌ဝှက်ထားတော်မူပါစေ။ အမျက်တော် မလွန်မှီ
တိုင်အောင်၊ ကွယ်ကာတော်မူပါစေ။ အကျွန်ုပ်
ကိုအောင်းမေ့စရာအချိန်ကို ချိန်းချက်တော်မူပါ
၁၄ စေ။- လူသည်သေလျှင် အသက်ရှင်ပြန်ပါလိမ့်
မည်လော။ အကျွန်ုပ် ပြောင်းလဲချိန် မရောက်မှီ၊
ပင်ပန်းစွာ အမှု ထမ်းရသော နေ့ရက် ကာလ
၁၅ ပတ်လုံး၊ သည်းခံလျက် နေပါမည်၊- အကျွန်ုပ်
ကိုခေါ်တော်မူပါ။ အကျွန်ုပ်ပြန်လျှောက်ပါမည်။
ကိုယ်တိုင် ဖန်ဆင်းတော်မူသောအရာကိုသနား
၁၆ ခြင်းမိတ်ရှိတော်မူပါ။- ယခုမှာအကျွန်ုပ်ခြေရာ
ထို့ကိုကိုယ်တော်သည်ရေတွက်၍၊ အကျွန်ုပ်အ
၁၇ ပြစ်ထို့ကို စောင့်တော်မူ၏။- အကျွန်ုပ်သည် မှား
ခြင်းအကြောင်းအရာကို၊ ဖိတ်၌တံဆိပ်ခတ်၍၊
အကျွန်ုပ်ရှိစရိုက် အပြစ် အပေါ်မှာ အထပ်ထပ်
၁၈ အပြစ် တင် တော် မူ၏။- ပြို သော တောင် သည်
ကွယ်ပျောက် တတ်ပါ၏။ ကျောက်သည် ထည်း
မိမိနေရာမှ ရွေ့လျော တတ်ပါ၏။ ရေတိုက်သော
၁၉ ကျောက် ခဲသည်ထည်း ပွန်းတတ်ပါ၏။- သွမ်း
မိုးသောရေနှင့် အထူးမြေမှုန့် ပါသွားတတ်ပါ၏။
ထိုအတူကိုယ် တော် သည် လူမျှော်လင့်စရာအ
၂၀ ကြောင်းကို ဖျက်တော် မူ၏။- ကိုယ်တော်သည်
ထူကိုအစဉ်နိုင်တော်မူ၍၊ လူသည်ကွယ်ပျောက်
တတ်ပါ၏။ ထူးခြားသောမျက်နှာကိုပေး၍၊ အ
၂၁ ခြားသို့ လွှတ် လိုက် တော်မူ၏။- သူ၏ သား၊ ထို
သည် ချီးမြှောက် ခြင်းသို့ ရောက် သော် လည်း၊
သူသည် မသိရပါ။ နှိမ့်ချခြင်းသို့ ရောက် သော်
၂၂ ထည်း၊ ထိုအမှုကို ပင်မရိပ်မိပါ။-သို့ရာတွင်၊သူ
၏ကိုယ်သည် ကိုက်ခဲလျက်၊ သူ၏ဝိညာဉ်သည်
ညည်းတွားလျက်နေရပါသည်ဟု မြွက်ဆို၏။

၁၅

၁ တဖန် တေမန် အမျိုးသား၊ ဧလိဖတ်မြွက်ဆို
၂ သည်ကား၊- ပညာရှိသောသူသည် လေနှင့်တူ
သော အချည်းနှီးစကားကို ပြောသင့် သလော။
မိမိဝမ်းကိုအရှေ့လေနှင့်ပြည့်စေသင့်သလော။-
၃ အကျိုးမဲ့သော စကား၊ ကျေးဇူး မပြု နိုင်သော
၄ စကားနှင့်ဆွေးနွေးသင့်သလော။- သင်သည်
ဘုရားသခင် ကို ကြောက်ရွံ့ခြင်း အကျင့်၌၊ အ
ကျိုးမရှိဟုဆိုလို၏၊ဆုတောင်းမေတ္တာပြုရာဝတ်
၅ ကိုဆီးတားတတ်၏။- သင်သည်ကိုယ်နှုတ်ဖြင့်
ကိုယ်အပြစ်ကိုဖော်ပြ၏၊ပရိယာယ်ပြုသောသူ
၆ ၏စကားကို သုံးတတ်၏။- ငါသည် သင့်ကို အ
ပြစ်မတင်၊ သင့်နှုတ်သည်သင့်ကိုအပြစ်တင်၏။
သင့်နှုတ်ခမ်းတို့သည် သင့်တစ်ဘက်၌ သက်သေ
၇ ခံ၏။- သင်သည် အဦးဆုံး ဖွားသော လူ ဖြစ်သ
လော။ တောင်များကို မဖန်ဆင်း မှီ သင့်ကိုဖန်
၈ ဆင်းသလော။- ဘုရားသခင်နှင့်တိုင်ပင်ဖူးသ
လော။ ပညာကိုကိုယ်၌အကုန်အ
၉ စဉ် ထိမ်းထား ပြီ လော။- ငါတို့ မသိ၊ သင် သိ
သောအရာမည်မျှရှိသနည်း။ ငါတို့၌မပါ၊သင်
၁၀ နားလည်သောအရာမည်မျှရှိသနည်း။- သင့်အ
ဖထက် အသက်ကြီးသောသူ၊ ဆံပင်ဖြူသောသူ
၁၁ ထိုသည်ငါတို့တွင်ရှိကြ၏။- သင်၌ဘုရားသခင်
ပေး တော် မူ သော သက် သာ ခြင်း အ ကြောင်း
နည်းသလော။ သင်၌ ဝှက်ထားသော အမှုတစုံ
၁၂ တခုရှိ သလော။- ကိုယ် စလိုသို့လိုက်၍၊ အ
ထယ်ကြောင့်တွဲ သွားသနည်း။ အထယ်ကြောင့်
၁၃ မျက်စောင်းထိုးသနည်း။- သင်၏စိတ်သဘော
သည် ဘုရား သခင်နှင့် ဆန့် ကျင်ဘက် ဖြစ်၍၊
၁၄ နှုတ် နှင့် ပြစ်မှား ပေ၏။- လူ သည် အဘယ် သို့
သောသူ ဖြစ်၍ သန့်ရှင်း နိုင်သနည်း။ မိန်းမွေးဖွား
သောသူသည်အဘယ်သို့သောသူဖြစ်၍ဖြောင့်
၁၅ မတ် နိုင် သနည်း။- ဘုရား သခင်သည် မိမိသန့်
ရှင်း သူတို့ကိုပင် ယုံတော်မမူ။ ကောင်းကင်ဘုံ
၁၆ သော်လည်း၊ ရှေ့တော်၌ မစင်ကြယ်။- သို့ဖြစ်
လျှင်၊ ရေကိုသောက်ထက်သို့ ဒုစရိုက်အပြစ်ကို
သောက် လျက်၊ ဆိုး ညစ် ရွံ့ ရှာ ဖွယ် သော လူ
သတ္တဝါ၌အဘယ်ဆိုဖွယ်ရှိသနည်း။
၁၇-၁၉ ငါစကားကိုနားထောင်လော့။တပါးအမျိုး
သားနှင့်မရောနှော၊ ကိုယ်အမျိုး တမျိုးတည်း
လျှင်မြေကိုပိုင်သောပညာရှိတို့သည်၊ ဘိုးဘေး
ထက်ထက်မှစ၍ မထိမ်မဝှက်၊ ပြောဘူးသော
အရာ၊ ငါကိုယ်တိုင် မြင်သော အရာ ကို ငါပြောသ
၂၀ မည်။-ဆိုးသောသူသည်တသက်လုံးဝေဒနာဆင်း
ရဲကိုခံရ၏။ ညှဉ်းဆဲ တတ်သော သူသည် မိမိ
၂၁ အသက် အပိုင်း အခြားကို မသိရ။- သူသည်
ကြောက်မက် ဖွယ်သောအသံကိုကြားလျက်နေ
ရ၏။ စည်းစိမ်ကိုခံစားစဉ်တွင်၊ ဖျက်ဆီးသော
၂၂ သူသည် လာတတ်၏။- မှောင်မိုက်ထဲမှာထား
လွတ်မည်ဟု မျှော်လင့်စရာမရှိ။ ထားဆည်သူ
၂၃ ကိုစောင့်ကြည့်လျက်ရှိ၏။- စားစရာကိုရှာ၍

ဖျက်ဆီးသည်ရှိ၏။မိမိအမှီရှောင်မိုက်ကာလသည်
၂၄ အထင့်မြှုသည်ကိုထိ၏။-ထင်းရဲခြင်းဒုက္ခနှင့်နာ
ကြင်ခြင်းဝေဒနာသည်ထိုသူကိုခြောက်တတ်
၏။ စစ်တိုက်ခြင်းငှါ အသင့်နေသော ရှင်ဘုရင်
၂၅ ကဲ့သို့သူကိုနှိုင်တတ်၏။-အကြောင်းမူကား၊ ထို
သူသည် ဘုရားသခင်၏ အာဏာတော်ကို ဆန့်
ကျင်၊အနန္တတန်ခိုးရှင်တဘက်ကနေ၍ကိုယ်ကို
၂၆ ခိုင်ခံ့စေ၏။- လည်ပင်းကို ဆန့်လျက်၊ ထူသော
ဒိုင်းလွှားနှင့် ဆီးကာလျက်၊ ဘုရားသခင်ကို တိုက်
၂၇ ခံ့သောငှါ ပြေး၏။- မိမိမျက်နှာကို ဆူဖြိုးခြင်း
နှင့်ဖုံးအုပ်၍၊ ဝမ်းပျဉ်းအသားသည်လည်းဆူ
၂၈ ဖြိုးလျက်အတွန့်တွန့်နေ၏။- သို့သော်လည်း၊လူ
ဆိတ်ညံသောမြို့၊အဘယ်သူမျှမနေ။လဲလုသော
၂၉ အိမ်ထို၌သူသည်နေရ၏။-ငွေမရတတ်ရ၊သူ၏
စည်းစိမ်မတည်ရ၊ သူ၏ဥစ္စာပစ္စည်းသည် မြေ
၃၀ ကြီးပေါ်မှာ မပြန့်ပွားရ။- သူသည် မှောင်မိုက်
ထဲနှင့်မလွတ်ရ၊ မီးလျှံသည် သူ၏အခက် အ
ထတ်တို့ကို လောင်လိမ့်မည်။ ဘုရားသခင်၏
နှုတ်တော်အသက်အားဖြင့် ထုတ်သင်ပယ်ရှင်း
၃၁ ခြင်းကိုခံရ၏။- အဘယ်သူမျှ လှည့်စားခြင်းကို
ခံ၍၊အနတ္တကိုမမှီခိုစေနှင့်။သို့မဟုတ်၊အနတ္တ
၃၂ အကျိုးကိုခံရလိမ့်မည်။-အချိန်မရောက်မှီဆုံးခြင်း
သို့ရောက်လိမ့်မည်။ သူ၏အခက်အလက်သည်
၃၃ မစိမ်းရ။- စပျစ်နွယ်ပင်ကဲ့သို့မိမိ၌မမှည့်သော
အသီးကိုဖုင်၊ သံလွင်ပင်ကဲ့သို့ မိမိအပွင့်ကိုဖုင်
၃၄ ကြွေရလိမ့်မည်။- အဓမ္မလူ၏အသင်းသည်ဆိတ်
ညံလိမ့်မည်။တံစိုးစားသောသူတို့၏နေရာသည်
၃၅ မီးလောင်လိမ့်မည်။- ထိုသူတို့သည်မကောင်း
သော အကြံကို ပဋိသန္ဓေယူ၍၊ အနတ္တကိုဖွား
ထတ်ကြ၏။ သူတို့ဝမ်းထဲ၌ မုသာကို ကိုယ်ဝန်
ဆောင်တတ်သည်ဟုမြွက်ဆို၏။

၁၆

၁-၂ ယောဘပြန်၍မြွက်ဆိုသည်ကား၊- ထိုသို့
သော စကားများတို့ကို ငါကြားဘူးပြီ။ သင်တို့
ရှိသမျှသည် နှစ်သိမ့်စေခြင်းငှါပြုသော်လည်း၊
၃ ပင်ပန်းစေသောသူဖြစ်ကြပါသည်တကား။-အ
ချည်းနှီးသော စကား မကုန်နိုင်သလော၊ သင်
သည်စကားတုံ့ပြန်ပြောခြင်းငှါအဘယ်ကြောင့်
၄ ရဲရင့်သနည်း။- သင်တို့ပြောသကဲ့သို့ ငါသည်
လည်း ပြော နိုင်၏။ သင်တို့သည် ငါကဲ့သို့ဖြစ်
လျှင်၊ ငါသည် သင်တို့တဘက်က စကားများကို
၅ စုဝေး၍ထားနိုင်၏။ ခေါင်းကိုလည်းခါနိုင်၏။- ထို
သို့ ငါသည် မပြုဘဲ၊ သင်တို့ကို ငါ့စကား နှင့် မစ
မည်။ အချည်းနှီးသောစကားကို ငါချုပ်ထည်း
၆ မည်။- ယခုမှာငါသည်ပြောသော်လည်းမသက်
သာ၊မပြောဘဲနေလျှင်လည်းခြားနားခြင်းမရှိ။-
၇ ဘုရားသခင်သည် ငါ့ကို ပင်ပန်းစေတော်မူပြီ။ ငါ
၈ အိမ်ကိုသုတ်သင်ပယ်ရှင်းတော်မူပြီ။- ငါ့ကိုခြေ
ချွင်းခတ်တော်မူ၍၊ထိုခြေချွင်းသည်ငါ့တဘက်က
သက်သေခံ၏။ငါပိန်ကြုံခြင်းအရာသည်လည်း၊
ငါ့တဘက်ကထ၍ မျက်နှာချင်း ဆိုင်လျက် သက်
၉ သေခံ၏။-အမျက်တော်သည်ငါ့ကိုအပိုင်းပိုင်းဆွဲ
ဖြတ်၍ညှဉ်းဆဲတတ်၏။ ငါ့အပေါ်မှာထံသွားခဲ
ကြိတ်ခြင်းကို ပြုတော်မူ၏။ ငါ့ရန်သူသည် ငါ့ကို
၁၀ မျက်စောင်းထိုး၏။-သူတပါးတို့သည်ငါ့ကိုပစပ်ဟ
ကြ၏။ အရှက်ခွဲ၍ပါးကိုရိုက်ကြ၏။ငါ့တဘက်က
၁၁ တညီတညွတ်တည်းစုဝေးကြ၏။- ဘုရားသခင်
သည် ငါ့ကို မတရားသော သူတို့တွင် ချုပ်ထား
တော်မူပြီ။လူဆိုးတို့၏လက်သို့အပ်တော်မူပြီ။-
၁၂ ငါသည် ငြိမ်ဝပ် လျက် နေသော အခါ၊ ငါ့အရိုး
တို့ကို ချိုးတော်မူ၏။လည်ပင်းကိုကိုင်၍ အပိုင်း
ပိုင်းဖြတ်စေခြင်းငှါလှုပ်တော်မူ၏။ငါ့ကိုပြစ်စရာ
၁၃ စက် သွင်းတော်မူ၏။- မြားတော် တို့သည် ငါ့ကို
ဝိုင်း၍ကရုဏာတော်မရှိဘဲ၊ ကျောက်ကပ်ကို
စူးစေတော်မူ၏။ ငါ့သည်းခြေအရည်ကိုမြေပေါ်
၁၄ ၌ သွန်းတော်မူ၏။- ငါ့ကိုအထပ်ထပ်ဆွဲဖြတ်၍၊
သူရဲကဲ့သို့ငါ့ကိုဟုန်းဟုန်းတိုက်လာတော်မူ၏။-
၁၅ ငါသည် ကိုယ် အရေ ပေါ်မှာ လျှော်တေ အဝတ်
၁၆ ကိုချုပ်၍၊ ကိုယ်ဦးချိုကို မြူနှင့်လူးပြီ။- ငိုခြင်း
အားဖြင့် ငါ့ မျက်နှာ ပျက်လျက်၊ ငါ့မျက်ခမ်း အ
၁၇ ပေါ်မှာ သေခြင်းအရိပ် လွှမ်းမိုးလျက်ရှိ၏။- သို့
သော်လည်း၊ငါ့လက်၌မတရားသောအမှုမရှိ။ငါ
၁၈ ပြုသော ပဌနာသည်သန့်ရှင်း၏။- အိုမြေကြီး၊ ငါ့
အသွေးကိုဖုံး၍မထားပါနှင့်။ငါအော်ဟစ်ခြင်း
အသံကိုသင်၌မနေစေနှင့်။
၁၉ ဤအမှု၌ ငါ့ သက်သေသည် ကောင်းကင်ပေါ်
မှာရှိ၏။ငါ့သဘောကိုသိသောသူသည်မြင့်သော
၂၀ အရပ်၌ ရှိ၏။- ငါ့ အဆွေ ခင်ပွန်း တို့ သည် ငါ့ကို
ကဲ့ရဲ့ ၍၊ ငါ သည် ဘုရားသခင် ရှေ့တော်၌ မျက်
၂၁ ရည်ကျလျက်နေ၏။-လူသည်မိမိအဆွေအကျွမ်း
နှင့်ဆွေးနွေးသကဲ့သို့ ဘုရားသခင်နှင့် ဆွေးနွေး
၂၂ ရသော အခွင့်ရှိပါစေသော။- နှစ်ပေါင်းမကြာ
မမြင့်မှီ၊ တဖန်ပြန်၍ မလာရသောလမ်းသို့ ငါ
လိုက်သွားရတော့မည်။

၁၇

၁ ငါ့အသက်ကုန်ပြီ။ ငါ့နေရသောကာလလည်း လွန်
၂ ပြီ၊ သင်္ချိုင်းသည်ငါ့အဖို့ဖြစ်၏။- ကဲ့ရဲ့တတ်
သော သူတို့ သည် ငါ့ ရှေ့မှာ ရှိကြသည် မဟုတ်
လော။ သူတို့နှောင့်ရှက်သော အပြင်းအရာ တို့
ကို၊ အစဉ်ငါကြည့်မြင်ရသည် မဟုတ်လော။-
၃ အာမခံပါလော့။ အာမခံပေးပါတော့။ အ
ဘယ်သူသည်ငါနှင့်ဂတိသစ္စာထားမည်နည်း။-
၄ ကိုယ်တော်သည် သူတို့ ဉာဏ်ကို ကွယ်စေ
တော်မူသည်ဖြစ်၍၊ သူတို့ကိုချီးမြှောက်တော်မ
၅ မူရ။- အကြင်သူသည်ဥစ္စာကိုလုယူဖို့သောငှါ
အဆွေခင်ပွန်းကိုအပ်၏။ ထိုသူ၏သားတို့သည်
၆ မျှော်လင့်၍ မိတ်ပျက်ရကြလိမ့်မည်။- ငါ့ကိုသူ
တပါးကဲ့ရဲ့စရာအကြောင်းဖြစ်စေတော်မူ၍၊ သူ
၇ တို့သည်ငါ့ကိုရွံ့ကြ၏။- ဝမ်းနည်းခြင်းအားကြီး
သောကြောင့်ငါ့မျက်စိမှုန်၏။ ကိုယ်အင်္ဂါများတို့
၈ သည်အရိပ်ကဲ့သို့ဖြစ်ကြ၏။- ဖြောင့်မတ်သော
သူတို့သည် ဤအမှုကြောင့် မိန်းမောတွေဝေကြ
လိမ့်မည်။ အပြစ်ကင်းလွတ်သောသူတို့သည်အ
ဓမ္မလူများတဖက်က၊ ကိုယ်ကို ကိုယ်နိုးဆော်
၉ ကြ လိမ့်မည်။- ဖြောင့် မတ် သော သူတို့ သည်
ထည်းတည်ကြည်ခြင်း၊ လက်စင်ကြယ်သော
သူ တို့ သည် ခွန် အား တိုး ပွား ခြင်း ရှိကြ လိမ့်
၁၀ မည်။- သင်တို့မူကား၊ တယောက်မျှ မကြွင်း၊
ပြန်သွား ကြပါတော့။ သင်တို့တွင်ပညာရှိတစုံ
တယောက်ကိုမျှငါမတွေ့နိုင်။
၁၁ ငါ့နေ့ရက်လွန်ပြီ။ ငါ့နှစ်လိုးသွင်းမိသော အ
ကြံအစည် တို့သည် ပျက်စီး ခြင်းသို့ ရောက်ကြ
၁၂ ပြီ။- ညဉ့်သည်ငါ့၌နေ့ကဲ့သို့ဖြစ်၍၊ ငါ့အလင်း
၁၃ သည်မှောင်မိုက်နှင့်နီးစပ်၏။- သင်္ချိုင်းသည်
ငါ့နေရာ ဖြစ်သည်ကို ငါ မျှော် လင့်၏။ ငါ့အိပ်ရာ
၁၄ သည်မှောင်မိုက်၌ခင်းလျက်ရှိ၏။- ပုပ်စပ်ခြင်း
အား၊ သင်သည်ငါ့အဖဖြစ်၏ဟူ၍၎င်း၊ တီကောင်
အား၊ သင်သည်ငါ့အမိ၊ ငါ့နှမဖြစ်သည်ဟူ၍၎င်း
၁၅ ငါဆိုရ၏။- သို့ဖြစ်၍၊ အဘယ်သို့ငါမျှော်လင့်
ရသနည်း။ ငါမျှော်လင့်စရာအကြောင်းကို အ
၁၆ ဘယ်သူ မြင်ရသနည်း။- ထိုအကြောင်း သည်
မရဏာနိုင်ငံအထဲသို့ဝင်၍၊ ငါနှင့်အတူမြေမှုန့်
၌နှိမ့်ချလျက်နေရမည်ဟုပြန်ဆို၏။

၁၈

၁ တဖန်ရှုအာအမျိုးသားဗိလဒဒ်ပြန်ဆိုသည်
၂ ကား၊- ဤစကားသည်အဘယ်အခါမှပြတ်လိမ့်
မည်နည်း။ သတိပြုကြ၊ ထိုမှတပါး ငါ တို့သည်
၃ စကား ပြောကြမည်။- သင်သည် ငါတို့ကို တိ
ရစ္ဆာန်ကဲ့သို့ အဘယ်ကြောင့် မှတ်သနည်း။ အ
၄ ဘယ် ကြောင့် မထိမဲ့မြင် ပြုသနည်း။- အမျက်
ထွက်၍မိမိကိုယ်ကိုကိုက်ဖြတ်သောသူ၊ သင့်အ
တွက် မြေကြီးကို စွန့်ပစ်ရမည်လော။ ကျောက်
၅ သည်မိမိနေရာမှရွှေ့ရမည်လော။- အကယ်စင်
စစ်ဆိုးသောသူ၏အလင်းသည် ကွယ်လိမ့်မည်။
၆ သူ၏ မီးလျှံ မတောက်ရ။- သူ၏ နေရာ အလင်း
သည်မှောင်မိုက်ဖြစ်လိမ့်မည်။ သူ၏ဆီမီးသည်
၇ သေလိမ့်မည်။- ခိုင်ခံ့စွာသွားသောအခါကျဉ်း
မြောင်းရာသို့ရောက်လိမ့်မည်။ မိမိအကြံအစည်
၈ အားဖြင့် ရှုံးရလိမ့်မည်။- ပိုက်ထဲသို့ အလိုလို
ဝင်တတ်၏။ ကျော့ကွင်းပေါ်မှာ နင်းတတ်၏။-
၉ ပိုင်း ပြုတ် ၍ ခြေကို မိသဖြင့် ကျော့ကွင်း နှင့် မ
၁၀ ကျွတ်နိုင်ဘဲနေရ၏။- မြေ၌ဂျမ်းကြိုးကို သူ့အဖို့
ဖွက် ထား လျက်၊ သူ သွားရာ လမ်း ၌ ထောင်
၁၁ ချောက်ကို ဖျင်လျက် ရှိ၏။- ကြောက်မက် ဖွယ်
သောအခြင်းအရာတို့သည်ပိုင်း၍၊ ကြပ်တည်း
၁၂ စွာ လိုက် နှင့်ကြလိမ့်မည်။- သူသည် ငတ်မွတ်
သော အား ဖြင့် အား လျော့လျက်၊ ပျက်စီးခြင်း
၁၃ ဘေးနှင့်တွေ့လုလျက်ရှိ၏။- ထိုဘေးသည်သူ၏
အမြိုးတို့ကိုကိုက်ခဲ၍၊ သေမင်း၏သားဦးသည်
၁၄ သူ၏ ခွန်အားကို ဖျိုလိမ့်မည်။- သူခိုတ်ရာ အ
ကြောင်းကို သူ၏နေရာမှ ပယ်ရှင်း၍၊ သူ့ကိုထိ
ကိုဘေးဒါဏ်တို့၏ ရှင်ဘုရင်ထံသို့ဆောင်သွား
၁၅ ရ၏။- သူ၏နေရာ၌အရှင်မရှိ။ ပျက်စီးခြင်းဘေး
နေ၍ အမိုးပေါ်မှာ ကန့်ဖျူးလျက်ရှိလိမ့်မည်။-
၁၆ သူ၏အမြစ်တို့သည်သွေ့ခြောက်လျက်၊ အောက်
အခက် တို့သည်း သေလျက် ရှိကြ လိမ့် မည်။-
၁၇ မြေပေါ်မှာသူကိုအောက်မေ့စရာအမှတ်ပျောက်
ပျက်၍၊ ပွဲသဘင်၌ သူ၏နာမကို အဘယ်သူမျှမ
၁၈ ခေါ်မပြော။- သူကိုအလင်းထဲကမှောင်မိုက်ထဲ
၁၉ သို့မောင်း၍၊ လူပြည်မှနှင်ထုတ်ရ၏။- သူ့အမျိုး
တွင်လူသားမြေးမရှိ။ သူ၏အိမ်သူအိမ်သားတ
၂၀ ယောက်မျှ မကျန်ရစ်ရ။- သူ၏ထက်ထက်၌ ရှိ
သောသူတို့သည် ထိတ်လန့်သကဲ့သို့၊ လူနောက်
၌ ဖြစ်သော သူတို့သည် သူ၏အမှုကြောင့်၊ မိန်း
၂၁ မော တွေဝေကြလိမ့်မည်။- အကယ်စင်စစ်ဆိုး
သောသူ၏နေရာသည်ထိုသို့သောလက္ခဏာရှိ၏။
ဘုရားသခင်ကို မသိသော သူသည် ထိုသို့သော
နေရာသို့ရောက်လိမ့်မည်ဟု ပြန်ဆို၏။

၁၉

၁,၂ ယောဘတပြန်၍ခြွက်ဆိုသည်ကား၊- သင်တို့
သည်ငါ့စိတ်ပိညှည်းကိုနှောင့်ရှက်၍၊ အဘယ်မျှ
ကာလပတ်လုံးသင်တို့စကားဖြင့် ငါ့ကိုချိုးဖဲ့ကြ
၃ လိမ့်မည်နည်း။-ဆယ်ကြိမ်မြောက်အောင်ငါ့ကို
ကဲ့ရဲ့ကြပြီ။ ငါ့ကို မိန်းမောတွေဝေစေခြင်းငှါ အ
၄ ရှက်မရှိဘဲ ပြုကြပြီ။- ငါပြစ်မှားပြီမှန်စေတော့။
၅ ငါ့အပြစ်နှင့်ငါသာဆိုင်၏။-သင်တို့သည်ငါ့အပေါ်
၌ဝါကြွား၍၊ ငါ့အရှက် ခံရသော့ကြောင့်၊ ငါ၌
၆ အပြစ်တင် ကြသော်လည်း- ဘုရားသခင်သည်
ငါ့ကိုလှည်း၍၊ မိမိ ကျော့ကွင်း၌ ကျော့မိတော်မူ
၇ ကြောင်းကိုသိမှတ်ကြလော့။- ငါသည်ကိုယ်ခံ
ရသောညှဉ်းဆဲခြင်းကိုအကြောင်းပြု၍၊ မြည်
တမ်းသော်လည်း၊ အဘယ်သူမျှ နားမထောင်။
အော်ဟစ်သော်လည်း၊တရားသဖြင့်စီရင်သော
၈ သူမရှိ။- ငါမသွားနိုင်အောင် ငါ့ရှေ့မှာ အဆီးအ
ကာပြု၍၊ငါသွားရာလမ်း၌ မှောင်မိုက်ကိုထား
၉ တော်မူပြီ။- ငါ့ဂုဏ်အသရေကိုချွတ်၍၊ငါ့ခေါင်း
၁၀ က ပေါင်း သရဖူကို ချတော် မူပြီ။- ငါ့ကိုပိုင်း ၍
ဖျက်ဆီးတော်မူသဖြင့်၊ ငါပျောက်ကုန်ပြီ။ သစ်
ပင်ကို နှုတ်သကဲ့သို့၊ ငါ မျှော်လင့်ရသော အခွင့်
၁၁ ကိုနှုတ် တော်မူ ပြီ။- ငါ၌ အမျက် တော် ကို နှိုး
၁၂ ဆော်၍၊ ငါ့ကိုရန်သူကဲ့သို့မှတ်တော်မူ၏။- စစ်ချီ
လာ၍၊ စစ်သူရဲ တော်တို့သည် ငါ့ ရှေ့သို့ ရောက်
ခြင်းငှါ၊ ကျုံး တူး၍ ငါ့ပတ်လည် ၌ တပ် ချကြ
၁၃ ၏။- ငါ့ညီအစ်ကိုတို့ကိုငါနှင့်ကွာဝေးစေတော်မူ
၏။ငါ့အသိအကျွမ်းတို့သည်ငါ့ကိုမသိမျိုးသော
၁၄ သူဖြစ်ကြ၏။- ငါ့ပေါက် ဖော်တို့သည် ငါ့ကို စွန့်
၁၅ ၍၊ငါ့သူငယ်ချင်းတို့သည်မေ့လျော့ကြ၏။-ငါ့ကျွန်
မများ၊ ငါ့အိမ် သူ အိမ် သား များ တို့ သည် ငါ့ကို
ဧည့်သည်ကဲ့သို့၎င်း၊တကျွန်းတနိုင်ငံသားကဲ့သို့
၁၆ ၎င်း မှတ်ကြ၏။- ကျွန်ကို ငါခေါ်သော အခါ သူ
သည် မထူး။ သူ့ကို နှုတ် ဆက်၍ တောင်း ပန်ရ
၁၇ ၏။-ငါ့မယားသည်ငါ့အသက်ငွေ့ကို၎င်း၊ငါ့သား
သမီးတို့သည်ငါ့မြည်တမ်းခြင်းအသံကို၎င်း ရွံကြ
၁၈ ၏။-သူငယ်တို့သည်လည်းငါ့ကိုမထီမဲ့မြင် ပြု၍၊
၁၉ ငါထသောအခါကဲ့ရဲ့ကြ၏။- ငါ့မိတ်ဆွေတို့သည်
ငါ့ကို ရွံ၍၊ ငါချစ်သောသူတို့သည်ငါ့ရန်သူဖြစ်ကြ
၂၀ ၏။-ငါ့အရေအသားသည်ငါ့အရိုးတို့၌ကပ်လျက်
ရှိ၏။ သွားဖုံးတရုသာ ပါလျက် ငါပြေး လွတ်ရ
၂၁ ၏။-ဖို အဆွေခင်ပွန်းတို့၊ငါ့ကိုသနားကြပါ။ငါ့ကို
သနားကြပါ။ ဘုရားသခင်၏ လက်တော်သည်
၂၂ ငါ့ကိုထိခိုက်ပါပြီ။- ဘုရားသခင်ညှဉ်းဆဲတော်
မူသည်နည်းတူ၊ အဘယ်ကြောင့်သင်တို့ သည်
ညှဉ်းဆဲကြသနည်း။အဘယ်ကြောင့်ငါ့အသား
ကိုစား၍၊မရောင့်ရဲဘဲနေကြသနည်း။
၂၃ ငါ့စကားကိုယခုရေးမှတ်ပါစေသော။ စာရင်း
၂၄ ၌သွင်းထားပါစေသော။သံပြားပေါ်မှာကညစ်နှင့်
အကွ ရာတင်လျက်၊ ကျောက်စာ ထိုးလျက် မြဲပါ
၂၅ စေ သော။- ငါ့ကို ရွေးနှုတ် သော သခင် သည် အ
သက် ရှင်၍၊ နောင် ကာလ၌ မြေမှုန့် အပေါ်မှာ
၂၆ ပေါ်လာ တော်မူမည်ဟု၍ ၎င်း- ငါ့အရေ ကုန်ပြီး
မှ၊ဤကိုယ်ကိုပင်ဖျက်ဆီးတော်လည်း၊ ငါသည်
ကိုယ်ခန္ဓာ၌ ဘုရားသခင်ကို မြင်မည်ဟု၍ ၎င်း
၂၇ ငါသိ၏။-သေ ကတ်၌နေတော်မူသောဘုရားသခင်
ကိုငါ မြင်မည်။ သူတပါး မြင် သည်သာ မက၊ငါ
သည်ကိုယ်မျက်စိနှင့်ဖူးမြင်မည်။ထိုသို့မျှော်လင့်
၂၈ ၍၊ ငါ့ကျောက်ကပ်သည်ဖျက်လျက်ရှိ၏။- ယခု
မှာသင်တို့က၊ငါတို့သည်သူ့ကိုအဘယ်သို့ညှဉ်း
ဆဲ ရ မည်နည်း။ သူ၌ အပြစ်ဖျောင်သော အခွင့်ကို
အဘယ်သို့တွေ့ရမည်နည်းဟု ဆိုကြသည်ဖြစ်
၂၉ ၍-ထားဘေးကိုကြောက်ကြလော့။အကြောင်း
မူကား၊ အမျက် တော် သည် ထားဘေးဖြင့် အ
ပြစ် ပေးတတ်၏။ အပြစ် စီရင် ရသော အမှုရှိ
ကြောင်းကိုသိမှတ်ကြလော့ဟုခြွက်ဆို၏။

၂၀

၁ တဖန် နေမတ် အမျိုး သား ဇောဖာ ခြွက်ဆို
၂ သည် ကား၊- ငါပြန် ပြောရမည်အကြောင်း၊ ငါ
စိတ်နှစ်လုံးသည် နှိုးဆော်သော့ကြောင့်၊ပြောချင်
၃ သောစိတ်အားကြီး၏။-ငါသည်ကိုယ်ခံရသော
ကဲ့ရဲ့ပြစ်တင်ခြင်းစကားကို ကြား ၍၊ ငါ့ဉာဏ်
သဘော နှိုးဆော်သဖြင့်ငါပြန်ပြောရ၏။
၄ ရှေးဦးရှာသောကာလ၊ လူကိုမြေကြီး ပေါ်မှာ
၅ နေရာချစကာလမှ စ၍- ဆိုးသော သူသည် ကြွာ
ခြင့် ရှာကာလ မဝါ ကြွားရ ကြောင်းကို၎င်း၊ အ
ဓမ္မလူသည် ခဏသာ ဝမ်းမြောက် ကြောင်းကို
၆ ၎င် မသိသလော။- သူ၏ဘုန်း သည် မိုဃ်း ပေါ်
သို့တက်၍၊ သူ၏ ခေါင်း သည် မိုဃ်း တိမ် ထိုင်
၇ အောင် မိုသော် လည်း- မိမိမစင် ကဲ့သို့ အစည်
ဖျက်ရလိမ့်မည်။သူ့ကိုမြင်ဘူးသောသူတို့က၊ထို
သူသည် အဘယ်မှာ ရှိသနည်းဟု မေးကြ လိမ့်
၈ မည်။- သူ သည် အိပ် မက် ကဲ့ သို့ လွင့် ပြား ၍၊
နောက် တဖန် မတွေ့ရ။ ညဉ့်ရူပါရုံကဲ့သို့ ကွယ်
၉ ပျောက်ရလိမ့်မည်။- သူ့ကိုမြင်ဘူးသော မျက်စိ

ကြည့်ရှုသောမျက်စိတဖန်သူ့ကိုမကြည့်မရှုရ၊ သူ၏နေ
၁၀ ရာအရပ်သည်နောက်တဖန်သူ့ကိုမမြင်ရ။- သူ၏
သားတို့သည်ဆင်းရဲသားတို့ကို ချော့မော့ရကြ
၏၊ ယူထားသောဥစ္စာကိုကိုယ်လက်နှင့်ပြန်ပေး
၁၁ ရကြ၏။- သူ၏ အရိုးတို့သည် ပျိုသောအရွယ်
၏အပြစ်နှင့်ပြည့်စုံသော်လည်း၊ သူနှင့်တကွမြေ
၁၂ မှုန့်၌ အိပ်ရကြလိမ့်မည်။- သူသည်မိမိပစပ်၌
ဒုစရိုက်ကို မြိန်မြိန်ထင်၍၊ မိမိလျှာအောက်မှာ
၁၃ ဝှက်ထားလျက်- နှမြောသဖြင့်၊ မစွန့်ရက်ဘဲ၊
၁၄ မိမိပစပ်၌ငုံသော်လည်း- စားပြီးလျှင်သူ၏ဝမ်း
ထဲမှာ အစာ ပြောင်း၍၊ မြွေဆိုး အဆိပ်အ
၁၅ တောက်ဖြစ်လိမ့်မည်။- သူမျိုသောစည်းစိမ်ဥစ္စာ
ကို တဖန် အန်ရလိမ့်မည်။ ဘုရားသခင်သည်
၁၆ ထိုကို ဝမ်းနှုတ်တော်မူမည်။- သူသည်မြွေဆိုး
အဆိပ် အတောက်ကို စုပ်၍၊ မြွေ ပေါက် ကိုက်
၁၇ သဖြင့် သေရလိမ့်မည်။- အသွယ်သွယ်သော
မြစ်၊ နို့နှင့်ပျားရည်စီးသောမြစ်တို့ကို မမြင်ရ။-
၁၈ မိမိလုပ်၍ ရသောဥစ္စာကို မိမိမသုံးဘဲ ပြန်ပေးရ
၏၊ ပြန်ပေးရသောဥစ္စာဖြစ်သောကြောင့်အားရ
၁၉ ခြင်းမရှိရ။- ဆင်းရဲသားတို့ကိုညှဉ်းဆဲစွန့်ပစ်
၍၊ မိမိမဆောက်သောအိမ်ကို လုယူသော
၂၀ ကြောင့်၎င်း- တောင့်တ၍မပြေနိုင်သောကြောင့်၎င်း၊
အလိုရှိသော ဥစ္စာတစုံတခုမျှမကြွင်း၊ ဆုံးရှုံးရ
၂၁ လိမ့်မည်။- သူလုယူစားသောသောအထက်နှင့်၊
အထယ်အရာမျှမလွတ်သောကြောင့်၊ သူ၏စည်း
၂၂ စိမ်မတည်ရ။- ဥစ္စာကြွယ်ဝစည်တွင်ပင်၊ ဆင်း
ရဲခြင်းနှင့်တွေ့၍၊ အမျိုးမျိုးသော အမှုတို့ သည်
၂၃ ရောက်ကြလိမ့်မည်။- သို့သော်လည်း၊ သူသည်
ဝစွာစားရ၏။ ဘုရားသခင်သည် အမျက်တော်
အရှိန်ကို သွန်၍၊ သူစားစရာအဖို့ အမျက်တော်
၂၄ မိုဃ်းကို ရွာစေတော်မူမည်။- သံလက်နက် ကို
ရှောင်၍ ပြေးသော်လည်း၊ ကြေးဝါ လေး မြှင့်
၂၅ ထွက်ချင်းခွင်းလိမ့်မည်။- မြှားကိုနှုတ်လျှင်၊ မိမိ
ကိုယ်ထဲကထွက်လာ၏၊ အရောင်တောက်သော
ထားသည်သူ၏ သည်းခြေထဲကထွက်လာ၍၊ သူ
၂၆ သည်မိန်းမော တွေဝေလျက်နေရ၏။- ခပ်သိမ်း
သောထေးတို့သည် သူအဖို့ သိုထားလျက်ရှိကြ
၏။ လူမမွှေးသောမီးသည်သူကို လောင်လိမ့်မည်၊
သူ၏နေရာ၌ကြွင်းသမျှသောအရာတို့ကိုလောင်
၂၇ ထိမ့်မည်။- မိုဃ်းကောင်းကင်သည်သူ၏အပြစ်
ကိုဖော်ပြ၍၊ မြေကြီးသည်လည်း သူတဘက်၌ထ
၂၈ ထိမ့်မည်။- သူ၏အိမ်၌ရှိသော ဥစ္စာသည်ကွယ်
ပျောက်၍၊ အမျက်တော်ထွက်သောနေ့၌ရေကဲ့
၂၉ သို့စီး သွားလိမ့်မည်။- ထိုသို့ သော ဆုလဒ် ကို
ဘုရားသခင်သည် လူဆိုးအား ပေးတော်မူ၏၊ ထို
သို့သောအမွေဥစ္စာကို၊ ဘုရားသခင် ခွဲဝေစီရင်
တော်မူသည်ဟု မြွက်ဆို၏။

## ၂၁

၁၊၂ ယောဘတဖန်၍မြွက်ဆိုသည်ကား၊- ငါ့စကား
ကိုစေ့စေ့နားထောင်၍၊ သနားနှစ်သိမ့်ခြင်းကို
၃ ပြုကြလော့။- ငါပြောရသော အခွင့် ရှိစေခြင်း
ငှါသည်းခံကြလော့၊ ငါပြောပြီးမှ ပြက်ရယ်ပြု
၄ ချင်လျှင်ပြုကြလော့။- ငါမြည်တမ်းသောအရာ
နှင့် လူဆိုင်သလော၊ အဘယ်ကြောင့် စိတ်မထို
၅ ထင့်သနည်း။- ငါ့ကိုကြည့်ရှုလျက် မိန်းမောတွေ
ဝေ၍၊ သင်တို့ပစပ်ကို သင်တို့လက်နှင့် ဖုံးအုပ်
၆ ကြလော့။- ငါသည်အောက်မေ့သောအခါ၊ မိန်း
မောတွေဝေ၍၊ ကိုယ်ခန္ဓာသည် တုန်လှုပ်
လျက်ရှိ၏။
၇ လူဆိုးတို့သည်အသက်ရှင်ရုံမျှမက၊ အဘယ်
ကြောင့်အသက်ကြီး၍ဘုန်းစည်းစိမ်နှင့်ပြည့်စုံ
၈ ကြသနည်း။- သူတို့သားသမီးတို့သည်သူတို့ပတ်
ဝန်းကျင်အရပ်၌၎င်း၊သူတို့အမျိုးအနွယ်သည်
၉ သူတို့ရှေ့မှောက်၌ ၎င်းနေရာ ကျကြ၏။- သူတို့
အိမ်များသည်လည်း၊ ဘေးနှင့်လွတ်၍ ငြိမ်ဝပ်
ကြ၏။ ဘုရားသခင် ဒဏ်ခတ်တော်မူခြင်းနှင့်
၁၀ ကင်းလွတ်ကြ၏။- သူတို့နွားထီးသည်မချွတ်
ချွဲ၊ အရွယ် ထိုက် တတ် ၏။ နွား မသည် လည်း
၁၁ ဝမ်းပိုးမပျက်၊ ဖွားတတ်၏။- သူတို့သူငယ်များ
ကိုသိုးစုကဲ့သို့ထုတ်၍၊ သားသမီးတို့သည် ကခုန်
၁၂ တတ်ကြ၏။- သူတို့သည် ပတ်သာနှင့် စောင်းကို
တီးလျက်၊ သီချင်းဆို၍ နှဲခရာမှုတ်သံနှင့် ဝမ်း
၁၃ မြောက် တတ်ကြ၏။- ပျော်မွေ့လျက် အသက်
ကာလကိုလွန်စေ၍၊ ချက်ချင်းသေမင်း နိုင်ငံသို့
၁၄ ဆင်း သက် တတ် ကြ၏။- ဘုရား သခင် အား
သည်း၊ ငါတို့ထံမှထွက်သွားလော့၊ ကိုယ်တော်
၁၅ ၏တရားကို ငါတို့ မသိ လိုဟူ၍၎င်း- အနန္တတန်
ခိုးရှင် သည် အဘယ်သို့သော သူဖြစ်၍၊ ငါတို့
သည်ဝတ်ပြုရမည်နည်း၊ သူကိုဆုတောင်းလျှင်
အဘယ်ကျေးဇူး ရှိလိမ့်မည်နည်းဟူ၍ ၎င်းဆို
တတ်ကြ၏။
၁၆ ထိုသော်လည်း၊ သူတို့သည် ကိုယ်စည်းစိမ်
ကိုကိုယ်မပိုင်ကြ။ မတရားသော သူတို့၏ အကြံ
၁၇ အစည်ကိုငါသည်ဝန်မခံ။- မတရားသောသူတို့

၏မီး ငြိမ်းသည် သော်၎င်း၊ သူတို့ကို ဖျက်ဆီး ခြင်း
၌၊ ဘုရား သခင် သည် အမျက် တော် ထွက်၍
မြွင့်၊ ထယ် နှစ်ကြိမ်သေးဒုပါတ်ထို့ကိုမိရင်တော်
၁၈ မူသူ သည် ကို ငင်- သူတို့ သည် လေ ရှေ့ မှာအ
မှိုက်နှင့် မုန်တိုင်း၊ ထိုက်သွားသောဖွဲကဲ့သို့၊ ထယ်
၁၉ နှစ်ကြိမ်ဖြစ်သူသည်ကိုငင်-ဘုရားသခင်သည်
သူ၏အပြစ်ကိုသူ၏ သားသမီးတို့အဖို့၊ ထယ်နှစ်
ကြိမ် ထိုထားတော်မူသည် ကိုငင်၊ သူသည်
၂၀ ကိုယ် ထိုင် သိ ၍- ကိုယ်ပျက်စီးခြင်းကိုကိုယ်
မျက်စိနှင့်မြင်လျက်၊ အနန္တတန်ခိုးရှင်၏အမျက်
တော်ကိုသောက် မိမည် သော၌၊ သူ၏ အပြစ် ကို
ထယ်နှစ်ကြိမ် ဆပ်ပေးတော် မူသူ သည်ကို ငင်
၂၁ ထိမှတ် ကြသော၊- သူနေရသော နှစ်ထရေသော
အခါ၊ သူသားသမီးတို့၌ ရောက်သောအမှုနှင့်သူ
၂၂ သည်အထက်သို့ဆိုင်သနည်း။-မြင့်သောအရပ်
၌နေသောသူတို့ကို အမိုးရတော်မူသော ဘုရား
သခင်ကိုအထက်သူ ထွန်သင် ထိမ့်မည်နည်း။-
၂၃ ထလောက်သော သူကား ခွန်အားနှင့် ပြည့်စုံ
၂၄ လျက်၊ငြိမ်ဝပ်ချမ်းသာ စွာသောတတ်၏။- သူ၏နို့
ချေးထိုသည်ရှူရှိုး၍၊ အရိုးထိုသည်ခြင်ဆီနှင့်
၂၅ ရိုးထ်ကြ၏။-ထလောက်သောသူကား၊တခါမျှ
၂၆ မပျော်မွေ့၊စိတ်ညှိုးငယ်လျက်သေတတ်၏။-နှစ်
ယောက်တို့ထိုသည်မခြားမနား၊ မြေမှုန့်၌အိပ်
၍ ထီကောင်များ ဖုံးလွှမ်း ခြင်းကိုခံရကြ၏။
၂၇ ထင်ထို့သည်အောင်းမေ့သောအရာ၊ငါ့ကိုမနာ
လိုသောစိတ်နှင့် ဆင်ခြင်သော အရာထိုကိုငါသိ
၏။-အာဏာထားတတ်သောသူ၏အိမ်သည်အ
ထယ်မှာရှိသနည်း။ မတရားသော သူတို့၏ ဘုံ
မိတ်မှန်ထိုသည်အထယ်မှာရှိသနည်းဟု၊သင်တို့
၂၈ သည်ဆိုကြလိမ့်မည်။- ခရီးသွားသောသူတို့ကို
၂၉ မမေးကြဘူးသလော၊ ဖျက်ဆီးရာ နေ့ရက်ကာ
ထတို့၊မတရားသောသူတို့သည်ထနုသေးထွက်
ထိမ့် မည် အ ကြောင်း၊ ဒေါသ အ မျက်ခံရာ နေ့
ရထ်ကာ ထသို့၊ ထနုထွတ်မြောက် ထိမ့် မည်အ
ကြောင်းတည်းဟူသော၊ သူတို့ထက္ခဏာ ထတ်
၃၀ သေများကို မထိကြ ထသော။- သူဖြစ်သော အမှု
ထိုလူရှေ့မှာ အထယ်သူ ဖော်ပြထိမ့် မည်နည်း။
သူ၏အပြစ်နှင့် အလျောက် အထယ်သူဆပ်ပေး
၃၁ ထိမ့် မည် နည်း။- သူသည် သင်းချိုင်း ခြင်း သို့
ရောက်၍၊သူ၏သင်းချိုင်းဂူကို အစောင့်ထားကြ
၃၂ ထိမ့်မည်။- သူသည်ချိုင့်မြေမှုန့်ထိုကိုချိုချို့ထင်
ထိမ့်မည်မရေမတွက်နိုင်အောင်များစွာသောသူ

ထိုသည်သူ့ရှေ့၌ သွားနှင့်အတူသို့၊ သူ့နောက်၌လူ
ခပ်သိမ်း ထိုကို မိမိ နောက်၌ သွေး ဆောင် ထိမ့်
၃၃ မည်။- ထိုဖြစ်၍၊ သင်တို့ဖြေပြောသောစကား၌
မှုသာ ပါ သော ကြောင့်၊ အ ထယ် ထို ဝ ထို အ
ချည်းနှီး နှစ်သိမ့်စေကြလိမ့်မည် နည်းဟု ပြန်
ဆို၏။

၂၂

၁ ထိုအခါ တေမန်အမျိုးသား ဧလိဖတ် ပြန်ဆို
၂ သည်ကား၊- လူသည်မိမိပညာအားဖြင့် မိမိအ
ကျိုးကိုပြုသကဲ့သို့၊ ဘုရားသခင်၌ကျေးဇူးပြု
၃ နိုင်သလော။- သင်၏ဖြောင့်မတ်ခြင်းအားဖြင့်၊
အနန္တ တန်ခိုး ရှင်သည် ကျေး ဇူး ရှိတော် မူသ
လော၊ သင်၏အကျင့်၌ အပြစ် မပါ ကြောင်းကို
ထင်ရှား စေသော အား ဖြင့်၊ အကျိုး မီး ပွား ရှိ
၄ တော် မူ သ လော။- သင့် ကို ကြောက် ရွံ့ သော
ကြောင့် ဆုံးမ ပေးတော် မူမည် လော၊ သင်နှင့်
၅ တရားတွေ့တော်မူမည်လော။- သင်ပြုသော ဒုစ
ရိုက်သည် အလွန်ကြီးသည် မဟုတ်လော။ သင့်
အပြစ်တို့သည် မရေမတွက် နိုင်အောင် များ ပြား
၆ သည်မဟုတ်လော။- သင်သည်ညီအစ်ကို ပေါင်
ထားသော ဥစ္စာကို မတရားသဖြင့်ခံယူပြီ။အဝတ်
၇ ရဲသောသူတို့၏အဝတ်ကိုထပ်၍ချွတ်ယူပြီ။-မော
သော သူ သောက်ဖို့ရေကိုမပေး၊ ငတ်မွတ်သော
၈ သူကိုမကျွေး။- အားကြီးသောသူမူကား၊ မြေကို
ပိုင်ရ၏၊ ဂုဏ် အသရေ ရှိသော သူ သည် နေမှု
၉ သော အခွင့်ကို ရ၏။- သင်သည် မုဆိုးမ တို့ကို
ထတ်ချည်းလွှတ်လိုက်၍၊မိဘမရှိသောသူငယ်
၁၀ ထို၏ထက်ကိုချိုးပြီ။-ထိုကြောင့်ကျော့ကွင်း၊နှင့်
ကျော့မိပြီ။ထိတ်လန့်သောစိတ်နှင့်ပင်ပန်းရ၏။-
၁၁ မမြင် နိုင်သော မှောင်မိုက်သည် ဖုံးအုပ်၍၊
၁၂ ဖြင်းပွားမီးသော ရေထည်ဖုံးမိုးရ၏။- ဘုရား
သခင်သည်ကောင်းကင်ထဝတ်ပေါ်၌မှာရှိတော်
မူသည် မဟုတ်လော။ ကြယ်တို့သည် ထယ်မျှ
၁၃ လောက်မြင့်ကြသည်တကား။-သို့ဖြစ်၍သင်က၊
ဘုရားသခင် သည် အဘယ်သို့ သိတော် မူမည်
နည်း၊ ထူသောထိမ်ထိုက် ကွယ်လျက်နှင့် စီရင်
၁၄ တော်မူနိုင်မည်လော။- မမြင်နိုင်အောင်ထူထပ်
သောတိမ်ထိုသည် ကိုယ်တော်ကိုဖုံးမိုးကြ၏။
ကောင်းကင် စကြဝဠာ ထိပ်ပေါ်မှာ ဖျည့်ထည်
၁၅ တော်မူသည်ဟုဆိုတတ်၏။-ကာလ အမြဲမရှေး
၁၆ ရှိဖျက်ဆီးခြင်း၊ ရေလွှမ်း မိုး၍၊- အခြေအမြစ်
၁၇ ပယ်ရှင်း ခြင်းကို ခံရသော သူတည်း၊ အသော၊

ဘုရားသခင်အား ငါတို့ထံမှ ထွက်သွားလော့ဟူ၍၎င်း၊ အနန္တတန်ခိုးရှင်သည် ငါတို့အဖို့အဘယ်
သို့ပြုနိုင်သနည်းဟူ၍၎င်း၊ ဆိုတတ်သော အဓမ္မ
လူတို့လိုက်သွားသောလမ်းဟောင်းကိုသင်သည်
၁၈ လိုက်ဦးမည်လော။- ထိုရာတွင်၊ ဘုရားသခင်
သည် သူတို့အိမ်ကိုကောင်းသောအရာနှင့်ပြည့်
စေတော်မူ၏။ မတရားသော သူတို့၏ အကြံအ
၁၉ စည်ကို ငါသည်ဝန်မခံ။- ဖြောင့်မတ်သော သူ
တို့သည်ကြည့်မြင်၍ ဝမ်းမြောက်ကြ၏။ အပြစ်
ကင်းသော သူတို့သည် ထိုအဓမ္မလူတို့ကို ကဲ့ရဲ့
၂၀ တတ်ကြ၏။- အကယ် စင်စစ် ငါတို့ရန်သူသည်
ပျက်စီးလေပြီ။ သူ၏စည်းစိမ်ကိုမီးလောင်လေပြီ
ဟုဆိုရကြ၏။
၂၁ ဘုရားသခင်နှင့် အကျွမ်းဝင်၍ မိဿဟာယ
ဖွဲ့လော့။ ထိုသို့ပြုမှကောင်းစားခြင်းသို့ရောက်ရ
၂၂ လိမ့်မည်။- နှုတ်တော်ထွက် တရားကို ခံယူ၍၊
၂၃ စကားတော်ကို နှစ်လုံး၌သွင်းပါလော့။- အနန္တ
တန်ခိုးရှင် ထံတော်သို့ ပြန်လာလျှင်၊ တည်
ဆောက်ခြင်းရှိလိမ့်မည်။ သင့်အိမ်မှဒုစရိုက်ကို
၂၄ ပယ်ရှားလျှင်-ရွှေကိုမြေမှုန့်ကဲ့သို့၎င်း၊ ဩဖိရရွှေ
ကိုမြစ်၌ရှိသောကျောက်စရစ်ကဲ့သို့၎င်း သိုထား
၂၅ ရလိမ့်မည်။- ထိုအခါ အနန္တ တန်ခိုး ရှင်သည်
သင်၌ရွှေရတနာ၊ သင်သုံးရသောငွေတဏှာဖြစ်
၂၆ တော်မူလိမ့်မည်။- သင်သည် အနန္တတန်ခိုးရှင်
၌မွေ့လျော်၍၊ ဘုရားသခင်ကိုဖူးမျှော်ရသောအ
၂၇ ခွင့်ရှိလိမ့်မည်။- သင်ဆုတောင်းသောအခါနား
ထောင်တော်မူမည်။ သစ္စာဝတ် ထားသည် အ
တိုင်း၊ သစ္စာဝတ်ဖြေရသောအခွင့်ရှိလိမ့်မည်။-
၂၈ သင်ကြံစည်သောအကြံအစည်သည်ထမြောက်
၍၊ သင်သွားသောလမ်း၌ရောင်ခြည်ထွန်းလိမ့်
၂၉ မည်။- သူတပါးတို့သည်နှိမ့်ချခြင်းကိုခံရသော
အခါ၊ သင်က၊ ချီးမြှောက်သောအခွင့်ရှိသည်ဟု
ဆိုရလိမ့်မည်။ စိတ်နှိမ့်ချသော သူကို ကယ်တင်
၃၀ တော်မူလိမ့်မည်။- အပြစ်မကင်းသောသူကိုပင်
ကယ်နှုတ်တော် မူလိမ့်မည်။ သင့်ပြုသော အမှု
သန့်ရှင်းသောအားဖြင့်၊ သူသည်ကယ်တင်ခြင်း
သို့ရောက်လိမ့်မည်ဟု ပြန်ဆို၏။

၂၃

၁၊၂ ယောဘတဖန်ပြန်၍ပြန်ဆိုသည်ကား၊-ယနေ့ငါ
ငြင်းခုံ မြည် တမ်း သော် လည်း၊ ငါခံရ သော
၃ ဒဏ်သည် သာ၍ ပြင်းပါ၏။- ဘုရား သခင်ကို
တွေ့နိုင်သောအရပ်ကိုငါသိပါစေသော။ ပလ္လင်
၄ တော်ရှေ့သို့ ရောက်ပါစေသော။- ရှေ့တော် သို့
ရောက်မှ ငါသည် ကိုယ်အမှုကို ဖွင့်ဆင်၍၊ များ
စွာသောအကျိုးအကြောင်းတို့ကိုလျှောက်ထား
၅ ရ၏။- ငါ့အား ပြန်ပြော မိန့် မြွက် တော် မူသော
၆ စကားတော်ကို ငါသိနားလည်ရ၏။- မဟာတန်
ခိုးတော်အားဖြင့် ငါနှင့် တရားတွေ့တော် မူမည်
လော။ တွေ့ တော်မမူ။ ငါ့စကားကို နားထောင်
၇ တော်မူမည်။-ဖြောင့်မတ်သောသူသည်ရှေ့တော်
၌ဆွေးနွေးသောအခွင့်ရှိ၍၊ တရားရှင်သည်ငါ့အ
၈ မှုကိုအစည်ရှင်းလင်းစေတော်မူမည်။- ယခုမူ
ကား၊ ငါတက်လျှင် ဘုရားသခင် ရှိတော် မမူ။
၉ ဆုတ်လျှင် ကိုယ်တော်ကိုမရိပ်မိ။- လုပ်တော်မူ
ရာလက်ဝဲဘက်သို့ သွားလျှင်၊ ကိုယ်တော်ကိုမ
ဖူးမတွေ့ရ။ လက်ျာဘက်၌ ပုန်းရှောင်လျက် နေ
တော်မူသောကြောင့်၊ ကိုယ်တော်ကို မမြင်ရ။-
၁၀ သို့သော်လည်း ငါသွားသောလမ်းကိုသိတော်မူ
၏။ စစ်တော် မူခြင်း ကိုခံပြီးမှ၊ ရွှေကဲ့သို့ ငါပေါ်
၁၁ လိမ့်မည်။- ခြေ တော် ရာကို အစည် တမိုက်၌
ရှောက်သွား၍၊ ကြွတော်မူရာ လမ်းကို မလွှဲမ
၁၂ ရှောင်လိုက်ပါ၏။-ထားတော်မူသောပညတ်တို့
ကိုငါမပယ်။ နှုတ်တော် ထွက် စကားတို့ကို ငါ
၁၃ ရင်ခွင်၌ သိုထားပါ၏။- သို့ရာတွင်၊ သဘောတ
ညီတည်း ရှိတော် မူသော ဘုရား သခင်ကို၊ အ
ဘယ်သူသည်ပြောင်းလဲစေနိုင်မည်နည်း။ အလို
၁၄ တော်ရှိသည်အတိုင်းပြုတော်မူလိမ့်မည်။-ငါ့အ
ငန်းအတာကိုစီရင်တော်မူ၏။ ထိုသို့သောအကြံ
၁၅ အစည် တော်အများ ရှိကြ ၏။- ထိုကြောင့် ရှေ့
တော်၌ ငါထိတ်လန့် လျက် နေ၍ ဆင်ခြင်သော
၁၆ အခါ၊ ကိုယ် တော်ကို ကြောက်ရွံ့ရ ၏။- ဘုရား
သခင်သည်ငါ့စိတ်ပျက်စေခြင်းငှါ၎င်း၊ အနန္တတန်
ခိုးရှင်သည်ငါ့ကြောက်ရွံ့စေခြင်းငှါ၎င်း ပြုတော်
၁၇ မူ၏။- အကြောင်းမူကား၊ မှောင်မိုက်မရောက်မှီ
ငါ့ကိုပယ်ရှင်းတော်မမူ။ ထူထပ်သောမှောင်မိုက်
မှငါ့ကိုကွယ်ကာတော်မမူပါတကား။

၂၄

၁ အနန္တတန်ခိုးရှင်သည် အဘယ်ကြောင့်ကာလ
အချိန် တို့ကို သို ထား တော် မမူ သ နည်း။ နား
လည်သောသူတို့သည်တရားစီရင်တော်မူရာနေ့
၂ ရက်ကို၊ အဘယ်ကြောင့်မမြင်ရသနည်း။-အချို့
သောသူတို့သည်မြေမှတ်တိုင်တို့ကိုရွှေ့တတ်ကြ
၏။ သူတပါး၏သိုးဆိတ်တို့ကိုလုယူ၍ ကိုယ်အဖို့
၃ ထိန်းကျောင်းကြ၏။-မိဘမရှိသောသူငယ်၏မြည်

ကိုဖောင်းထွား၍၊ ခုဆိုးမ၏နွားကို အပေါင်ထူ
၄ ကြ၏။- ငတ်မွတ်သောသူတို့ကိုလမ်းထဲ့ခဲစေကြ
၏။ ဆင်းရဲသောပြည်သားတို့သည် စုဝေး၍
၅ ပုန်းရှောင်လျက်နေရကြ၏။-သူတို့သည်အလုပ်
လုပ်ခြင်းငှါ တော၌ရိုင်းသော မြည်းကဲ့သို့ ထွက်ရ
ကြ၏။ စားစရာကိုရှာခြင်းငှါ နံနက်စောစော
ထွား၍၊ ကိုယ်အမှီနှင့်သား သမီးတို့အဖို့ကိုတော
၆ ၌တွေ့ရကြ၏။-လယ်ပြင်၌ကား၊ လူညစ်ဆဲသော
သူ၏ ပေါ်ကိုရိတ်၍၊ သူ၏စပျစ်သီးကို သိမ်းရ
၇ ကြ၏။-ချမ်းသောကာလ၌ကိုယ်ကိုဖုံးလွှမ်းစရာ
၈ အဝတ်မရှိ၊ အချည်းစည်းအိပ်ရကြ၏။-တည်း
ခိုစရာထဲ မရှိသောကြောင့်၊ တောင်ပေါ်၌ မိုဃ်း
ရေ ရိုစွတ်လျက် ကျောက်ကြားမှာ ခိုရကြ၏။-
၉ အမေမရှိသောသူငယ်သည် အမိနို့နှင့် ကွာရ၏။
ဆင်းရဲ သားသည် မိမိဥစ္စာကို ပေါင်ထားရ၏။-
၁၀ အဝတ်မရှိ၊ အချည်းစည်း လှည့်လည်၍ မွတ်
သိပ်လျက်၊ လူတပါးကောက် လှိုင်းကို ထမ်းရ
၁၁ ၏။- လူတပါးအိမ်မှာ ဆီကို ကြိတ်လျက်၊ စပျစ်
၁၂ သီးကိုနင်းနယ်လျက်အငတ်ခံရ၏။-လူတို့သည်
မြို့ထဲမှာညည်းတွားကြ၏။နာသောသူတို့သည်
အော်ဟစ်ကြ၏။သို့သော်လည်း၊သူတို့ဆုတောင်း
သော စကားကို ဘုရားသခင် သည် ပမာဏ ပြု
တော်မမူ။
၁၃ အလင်းကိုဆန့်ကျင်
ဘက်ပြု၍ အလင်းသဘောကို မသိ၊ လင်းသော
၁၄ လမ်းသို့ မလိုက်တတ်ကြ။- လူသတ်သည် စော
စောထ၍၊ ဆင်းရဲငတ်မွတ်သောသူတို့ကို သတ်
၁၅ တတ်၏။ ညဉ့်အခါ သူခိုးလုပ်တတ်၏။- လူမ
ယားကိုခိုးသောသူသည်ညဦးယံအချိန်ကိုမျှော်
လင့်၍၊ မိမိမျက်နှာကိုဖုံးလျက်အဘယ်သူမျှမ
၁၆ မြင်ရဟု ဆိုတတ်၏။- လူဆိုးတို့သည် ညဉ့်အ
ချိန်၌သူတပါး၏ အိမ်ကိုဖောက်ထွင်းတတ်ကြ
၏။နေ့အချိန်၌ပုန်းလျက်နေ၍အလင်းကိုရှောင်
၁၇ တတ်ကြ၏။- နံနက်ယံကိုသေမင်း အရိပ်ကဲ့သို့
ထင်မှတ်၍၊ သေမင်းအရိပ်ကြောက် မက်ဖွယ်
၁၈ သောသေးထိုကိုသိရကြ၏။- ရေပေါ်မှာပေါ့ပါး
ကြ၏။ မြေပေါ်မှာ ကျိန်ဆဲသော အဖို့ကို ခံရ၍၊
၁၉ စပျစ်ဥယျာဉ်အနီးသို့ မချည်းရကြ။- မိုဃ်းရေ
သည်ခန်းခြောက်ခြင်း၊အားဖြင့်၎င်း၊ နေပူအချိန်
အားဖြင့်၎င်း၊ ကွယ် ပျောက် တတ် သကဲ့ သို့၊ မ
တရားသော သူ သည် သေ မင်း နိုင်ငံ၌ ကွယ်
၂၀ ပျောက်တတ်၏။- သူ၏အမိသည်သူကိုမေ့လျော့
၍၊ ပိုးကောင်တို့ သည် မြိန်စွာ စားသိမ့်စေ၍၊
နောက်တဖန် အဘယ်သူမျှ မအောက်မေ့ရ။ မ
တရားသော သူသည် သစ်ပင်ကဲ့သို့ ကျိုးရလိမ့်
မည်။
၂၁ မတရားသော သူသည် သားမဘွားသောမိန်း
မကိုညှဉ်းဆဲတတ်၏။ခုဆိုးမကိုထည်လျော့ရှူး
၂၂ မပြုတတ်။- အားကြီးသောသူကိုပင်မိမိတန်ခိုး
ကြောင့်ပယ်ရှင်းတတ်၏။ထသောအခါလူထိုမ်း
၂၃ ကိုယ်အသက်အမှီ မိုးမရှိမ်တတ်၏။- ထိုသူတွင်၊
ရဲရင့်စွာခိုလှုံရာ အခွင့်ကိုလူအားပေး၍၊ ထိုသို့
သောသူတို့၏ အမှုအရာကိုပမာဏပြုတော်မူ၏။-
၂၄ ခဏချီးမြှောက် ခြင်းသို့ ရောက်၍ တဖန်ကွယ်
ပျောက် ကြ၏။ နှိမ့်ချ ခြင်းသို့ ရောက်ထမြဲ၊ အ
ခြားသောသူကဲ့သို့အသက်ချုပ်ခြင်းကိုခံ၍၊ စပါး
နှံအဖျားကဲ့သို့ရိတ်ဖြတ်ခြင်းကိုခံရကြ၏။-
၂၅ သို့မဟုတ်လျှင်၊ ငါ၏ စကားအပြစ်ကိုအဘယ်သူ
ပြမည်နည်း။ ငါ၏စကားကို အဘယ်သူ ရှုတ်ချမည်
နည်းဟု မြွက်ဆို၏။

၂၅

၁ တဖန် ရှုအာအမျိုးသား ဗိလဒ်မြွက်ဆိုသည်
၂ ကား၊-ဘုရားသခင်သည် အာဏာတော်နှင့်၎င်း၊
ကြောက်ရွံ့ ရိုသေဖွယ်သော ဂုဏ်တော်နှင့် ၎င်း
ပြည့်စုံ၍၊ မြင့်သော ဌာနတော်၌ ငြိမ်သက်ခြင်း
၃ ကိုပြုစုတော်မူ၏။- ဗိုလ်ခြေတော်တို့ကိုရေတွက်
နိုင်သလော၊ အလင်းတော်သည်အဘယ်သူကို
၄ မလင်းဘဲနေသနည်း။-သို့ဖြစ်၍၊လူသည်ဘုရား
သခင်ရှေ့တော်၌ကုသိုလ်ကိုအဘယ်သို့ရနိုင်သ
နည်း၊ လူမိန်းမဘွားမြင်သောသူသည်အဘယ်သို့
၅ သန့်ရှင်းနိုင်သနည်း။- လသော်လည်းအလင်း
၆ မရှိ။ ကြယ်သော်လည်းရှေ့တော်၌မစင်ကြယ်။- ထို
မျှမက၊တီကောင်ဖြစ်သောလူ၊ပိုးလောက်ဖြစ်သောလူ
သားကို အဘယ်ဆိုဖွယ်ရာ ရှိသနည်းဟု မြွက်
ဆို၏။

၂၆

၁၊၂ ယောဘက ပြန်၍ မြွက်ဆိုသည်ကား။- သင်
သည် အားနည်းသော သူကို အဘယ်သို့ မစသ
နည်း။ ထက်ကျသောသူကိုအဘယ်သို့ထောက်
၃ ပင့်သနည်း။-မိုက်သောသူကိုအဘယ်သို့အကြံ
ပေးသနည်း။ ထူးဆန်းသော ပညာကို အဘယ်
၄ သို့ ပြသနည်း။- ဤစကားကို အဘယ်သူ အား
မြွက်ဆိုသနည်း။ အဘယ်သူ၏ဝိညာဉ်အားဖြင့်
ယောပြောသနည်း။

၅ ခေါက်အရပ်၌သင်းမျိုင်းသားတို့နှင့်တကွ
ရေများနှင့်ရေ၌ နေသော သူများ တို့သည် တုန်
၆ လှုပ်ကြ၏။- မရဏာနိုင်ငံသည်ရှေ့တော်၌ဖွင့်
လျက် ရှိ၏၊ အဗဒ္ဒုန် နိုင်ငံကို ဖုံး အုပ် ခြင်း မရှိ
၇ ရာ။- မိုဃ်းကောင်းကင်ကို လွတ်လပ် လဟာ၌
ဖြန့်တော် မူ ၏၊ မြေ ကြီးကို အရာ အခံမရှိ၊ ဆွဲ
၈ ထားတော်မူ၏။- ထူထပ်သောမိုဃ်းတိမ်တော်
နှင့်ရေကိုထုပ်တော်မူ၍၊ မိုဃ်းတိမ်သည်မစုတ်
၉ မပြတ်နေ၏။-မိုဃ်းတိမ်တော်ကိုဖြန့်၍၊ ပလ္လင်
၁၀ တော် မျက် နှာကို ဖုံးအုပ်တော် မူ၏။- အလင်း
နှင့် အမိုက်ဆုံမိရာအပိုင်း အခြား၌၊ စကြဝဠာ
၁၁ ကို ကန့် ကွက် တော် မူ ၏။- ဆုံးမ တော် မူ ခြင်း
ကြောင့်၊ မိုဃ်း ကောင်းကင် တိုင်တို့သည် တုန်
၁၂ လှုပ်၍မိန်းမောတွေဝေလျက်နေကြ၏။- တန်ခိုး
တော်အားဖြင့်သမုဒ္ဒရာကိုဆူပွက်တော်မူ၏၊ပညာ
တော်အားဖြင့်သူ၏ မာနကိုရှုံးဖျက်တော်မူ၏။-
၁၃ ဝိညာဉ်တော် အားဖြင့် မိုဃ်းကောင်းကင် တန်
ဆာများကိုဖွင့်၍၊ လျှင်မြန်သောနဂါးကိုလည်း
၁၄ ဖန်ဆင်း တော်မူ၏။- ဤအရာ၊ အမှုတော်အ
ရိပ်အမြွက်သာဖြစ်၏၊စကားတော်အသံအနည်း
ငယ်ကို သာနား ကြားရ၏။ တန်ခိုးတော် မိုဃ်း
ကြိုးသံကို အဘယ်သူ နားလည် နိုင်သနည်း ဟု
မြွက်ဆို၏။

၂၇

၁ ယောဘသည် ထက်သာစကားကို ဆက်၍မြွက်
၂ ဆိုသည်ကား။- ငါ့ကိုအမှု ရှုံးစေတော် မူသော
ဘုရားသခင်၊ငါ့ဝိညာဉ်ကိုညှဉ်းဆဲတော်မူသော
အနန္တတန်ခိုးရှင်သည်အသက်ရှင်တော်မူသည်
၃ မှန် လျှင်- ငါ့အသက် ရှင်လျက်၊ ငါ့နှာ ခေါင်း၌
ဘုရားသခင် ပေးတော်မူသော အသက်တည်သ
၄ မျှကာလပတ်လုံး-တခါမျှအဓမ္မစကားကိုငါနှုတ်
မမြွက်၊ လှည့်စားသောစကားကို ငါ့လျှာဖြင့်ငါမ
၅ ပြောဆဲနေမည်။- သင်တို့သဘော ဖြောင့်သည်
ဟု၊ ဝန်ခံသော စကား သည် ငါနှင့် ဝေးပါစေ
သော။ ငါသည် ကိုယ်သဘော ဖြောင့်သည် ကို
၆ ထေသည် တိုင်အောင်မပြင်း။- ငါသည် တရား
သော အကျင့်ကို လက် မလွှတ်၊ စွဲကိုင်လျက် နေ
မည်။ အသက် ရှင်သမျှ ကာလ ပတ်လုံး ကိုယ်
စိတ်နှစ်လုံးသည်ကိုယ်ကိုအပြစ်မတင်ရ။
၇ ငါ့ရန်သူသည်ဆိုးသောသူကဲ့သို့ဖြစ်၊ ငါ့တဘက်
၌ထသောသူသည် မဖြောင့်မတ်သော သူကဲ့သို့
၈ ဖြစ်ပါစေသော။- အဓမ္မလူသည်ဆုံးခြင်းသို့
ရောက်၍၊ အသက်ဝိညာဉ်ကိုဘုရားသခင်နှုတ်
တော်မူသောအခါအဘယ်မျှော်လင့်စရာရှိသေး
၉ သနည်း။- ထိုအမှု ရောက်သောအခါ၊ သူအော်
ဟစ် ခြင်းကို ဘုရား သခင် နား ထောင် တော် မူ
၁၀ မည်လော။- ထိုသူသည်အနန္တတန်ခိုးရှင်၌မွေ့
လျော် လိမ့်မည်လော။ ဘုရားသခင်ကို အစဉ်
ပဌနာပြုလိမ့်မည်လော။
၁၁ ဘုရားသခင်၏ အမှုတော်တို့ကို သင်တို့အား
ငါပြသမည်။ အနန္တတန်ခိုး ရှင်ကြံစည် တော်မူ
၁၂ သောအရာတို့ကိုငါထိမ်ဝှက်၍မထား။-သင်တို့
သည်ကိုယ်တိုင် သိမြင်လျက်၊ ဤမျှ ထောက် အ
ချည်းနှီး သောစိတ်ကို အဘယ်ကြောင့် ပြုစုကြ
၁၃ သနည်း။- လူဆိုး အား ဘုရားသခင်ပေးတော်မူ
သောဆုလဒ်၊ ညှဉ်းဆဲတတ်သော သူသည်အ
နန္တတန်ခိုး ရှင်၏ လက် တော်မှ ခံရသော အမွေ
၁၄ ဥစ္စာ ဟူမူကား၊- သူ၏သားတို့ များပြား သော်
လည်းထားစာဖြစ်ကြ၏။မွတ်သိပ်ခြင်းကိုလည်း
၁၅ ခံရကြ၏။- သူ၌ကျန် ကြွင်းသော သူတို့ကိုသေ
မင်းသင်းပြိုဟ်လိမ့်မည်။ သူ၏မုဆိုးမတို့သည်
၁၆ ငိုကြွေး ခြင်းကို မပြုရကြ။- သူသည် ငွေကိုမြေ
မှုန့်ကဲ့သို့ပုံ၍၊ အဝတ် တန်ဆာကို ရွှံ့ကဲ့သို့ ဖွင်
၁၇ ဆင်သော်လည်း- ထိုအဝတ်တန်ဆာကို ဖြောင့်
မတ်သောသူသည် ဝတ်ဆင်လိမ့်မည်။ ထိုငွေကို
၁၈ အပြစ် ကင်းသော သူသည် ဝေဌလိမ့်မည်။- သူ
ဆောက် သော အိမ်သည် ပိုးရှု အိမ် ကဲ့သို့ ၎င်း၊
၁၉ ကင်းတဲ ကဲ့သို့၎င် ဖြစ် ၏။- ထိုရတတ် သော သူ
သည် သေသောအခါ သင်းဂြိုဟ် ခြင်းကို မခံရ။
၂၀ ချက်ခြင်း တမှိတ်၌ ဆုံး ရှုံးပြီ။- ထသော ရေကဲ့သို့
ထေးဥပါတ်တို့သည်သူကိုလိုက်တတ်၏။ ညည့်
အခါ မိုဃ်းသက်မုန်တိုင်းတိုက်သွားတတ်၏။-
၂၁ အရှေ့ လေ လွင့်၍ သူသည်မိမိနေရာ၌ မတည်။
၂၂ လေအလဟုန်ဖြင့် ပါသွားတတ်၏။- ဘုရားသခင်
သည်မသနားဘဲ ဖါ၏ ခတ်တော်မူသဖြင့်၊ လက်
၂၃ တော်မှ လွတ်ခြင်းငှါ အလိုရှိလိမ့်မည်။- လူတို့
သည်လက်ခုပ်တီး၍၊ ကဲ့ရဲ့သံကိုပြု လျက်၊ သူ
ကိုမောင်းကြလိမ့်မည်။

၂၈

၁ ငွေလိုက်သော ငွေကြောင်းသည် စင်စစ်ရှိ၏။
၂ လူစစ် တတ်သော ရွှေနေရာလည်း ရှိ၏။- သံကို
မြေကြီးထဲက တူးယူတတ်၏။ကျောက်ကိုချက်၍
၃ ကြေး နီကို ရတတ် ၏။- လူသည် မှောင် မိုက်ကို
ပျောက်စေတတ်၏၊ အဆုံးတိုင်အောင်ရှင်မှောင်

ခိုတ်ကျောက်၊ သေမင်း အမိုပ် တိုင်အောင် ရှာ
၄ ထိုက်၍ စစ်တတ်၏။- တောင် မြေရင်း၌ တွင်း
တူး၍၊ မြေဖြင့်ကိုယ်ကိုမထောက်ဘဲဆင်း၍၊ လူ
၅ နေရာကို စွန့်သွား တတ်၏။- မြေသည် စားစရာ
ကိုပေးတတ် သော်လည်း၊ အောက်အရပ်၌ မီး
၆ ဖြင့်ပျက်သကဲ့သို့အပျက်ခံရ၏။- သူ၏ ကျောက်
တို့သည် ကျောက်နီနေရာဖြစ်၏။ မြေမှုန့် လည်း
၇ ရွှေဖြစ်၏။- အဘယ်ငှက်မျှမသိ၊ လင်းတ မျက်စိ
၈ လည်း မမြင်ဘူးသောလမ်းရှိ၏။- ထိုလမ်းကို
၉ သားရဲမနင်း၊ ခြင်သွေ့မရှောက်သေး။- လူသည်
ကျောက်ပေါ်မှာ လက်တင်၍၊ တောင်တို့ကိုမြေ
၁၀ ရင်း တိုင်အောင် မှောက်တတ်၏။- ကျောက်တို့
တွင်ရေစီးစေတတ်၏။ သူ၏မျက်စိသည်ထူးဆန်း
၁၁ သောအရာရှိသမျှတို့ကို ကြည့်မြင် တတ်၏။-စီး
သောရေကိုတဖန်ဖြတ်၍၊ ဝှက်ထားသောအရာ
တို့ကိုထုတ်ဖော်တတ်၏။
၁၂ သို့ရာ တွင်၊ ပညာကို အဘယ်မှာ တွေ့ရ လိမ့်
မည်နည်း။ ဉာဏ်သည်လည်းအဘယ်အရပ်
၁၃ ၌နေသနည်း။- ဉာဏ်ပညာ အဘိုးကို လူမသိ
နိုင်။ အသက် ရှင်သော သူတို့၏ နေရာ၌ ရှာ၍မ
၁၄ တွေ့နိုင်။- နက် နဲသော အရပ်က ငါ၌ မရှိ။ ပင်
၁၅ လယ်ကလည်း၊ ငါ၌မရှိဟု ဆိုတတ်၏။- ရွှေစင်
ကိုပေး၍ပညာကိုမရ။ ငွေကိုချိန်၍ပညာအဘိုး
၁၆ ကိုမဖိုးနိုင်။-ဩဖိရရွှေ၊မြတ်သောရှဟံကျောက်၊
နီလာ ကျောက် နှင့် ဝယ်သော်လည်း မရနိုင်။-
၁၇ ရွှေဖြစ်စေ၊ ကျောက်သလင်းဖြစ်စေ၊မဖိုးနိုင်။ ရွှေ
၁၈ စင်တန်ဆာများနှင့်ဖလှယ်၍မရနိုင်။-သန္တာနှင့်
ပုလဲကိုပြောစရာမရှိ။ပညာသည်ပတ္တမြားထက်
၁၉ သာ၍ အဘိုးကြီး၏။- ကုရှဥသာဖရားသည် မဖိုး
နိုင်။အမြတ်ဆုံးသောရွှေနှင့်ဝယ်၍မရနိုင်။
၂၀ သို့ ဖြစ် ၍၊ ပညာ သည် အ ဘ ယ် က လာသ
နည်း။ ဉာဏ် သည် အ ဘယ် ဆီမှာ နေရာ ကျ
၂၁ သနည်း။- အသက် ရှင် သော သတ္တဝါ တစုံ တ
ယောက်မျှ ကြည့် ၍ မမြင် နိုင်။ မိုဃ်း ကောင်း
၂၂ ကင်ငှက်တို့သည်ရှာ၍မတွေ့နိုင်။-အဗဒ္ဒုန်မင်း
နှင့် သေမင်းတို့က၊ ပညာ၏သိတင်းကို နားနှင့်
၂၃ ကြားရုံမျှသာရှိသည်ဟု ဆိုတတ်ကြ၏။- ဘုရား
သခင်သာလျှင်ပညာလမ်းကို နားလည်တော်မူ
၂၄ ၏။ ပညာနေရာအရပ်ကိုသိတော်မူ၏။- လေကို
၂၅ ချိန်လျက်၊ ရေကိုလည်းခြင်လျက်၊ မြေကြီးစွန်း
တိုင်အောင်ကြည့်ရှု၍၊ ကောင်းကင် အောက်၌
၂၆ ရှိသမျှတို့ကိုမြင်တော်မူ၏။- မိုဃ်းရွာမှုကိုစီရင်
၍၊ မိုဃ်းကြိုးလျှပ်စစ်ပြတ်ရာလမ်းကိုဖန်ဆင်း
၂၇ သော အခါ၊- ပညာကို မြင်၍ ဖော်ပြတော် မူ၏။
၂၈ ပညာတရားကိုထား၍ စုံစမ်းတော်မူ၏။- လူတို့
အားလည်း ထာဝရဘုရား ကို ကြောက်ရွံ့ ခြင်း
သည်ပညာ ဖြစ်ကြောင်းနှင့်၊ ဒုစရိုက်ကို ရှောင်
ခြင်းသည်ဉာဏ် ဖြစ်ကြောင်းကို၊မိန့်တော်မူပြီ
ဟုမြွက်ဆို၏။

## ၂၉

၁ ယောဘသည် ထက်ာစကားကိုဆက်၍ မြွက်
၂ ဆိုသည်ကား၊- ငါသည်လွန်လေပြီးသောနှစ်၊
လ၊ ဘုရားသခင်စောင့်မတော်မူသောနေ့ရက်၌
၃ ဖြစ်သကဲ့သို့ တဖန် ဖြစ်ပါစေ။- ထိုအခါ ဘုရား
သခင်၏မီးခွက်သည် ငေါင်းပေါ်မှာ ထွန်းလင်း
သည်ဖြစ်၍၊ထိုအလင်းကိုငါအမှီပြုလျက်၊ မိုက်
၄ သောအရပ်၌ရှောက်သွားနိုင်၏။- ငအသက်ရှို
သောကာလ၊ငအိမ်၌ဘုရားသခင်နှင့်မိဿဟာ
ယဖွဲ့ရသောအခွင့်ရှိသောကာလ၌၊ငါဖြစ်သကဲ့
၅ သို့တဖန်ဖြစ်ပါစေ။- ထိုအခါ အနန္တတန်ခိုး ရှင်
သည်ငဘက်၌ရှိတော်မူ၏။ ငသားတို့ ထိုသည်
၆ လည်းငကိုပိုင်းလျက်နေကြ၏။-ထိုအခါငါသွား
သောလမ်း၌နို့ရည်စီးလေ၏။ ကျောက်ခဲသည်
၇ လည်း၊ ငအဖို့ ဆီကို သွန်း သောင်းလေ၏။- ငါ
သည် မြို့အလယ်၌ရှောက်၍၊ မြို့တံခါး ထိုသွား
လျက်၊ လမ်း၌ထိုင်ရာကိုပြင်ဆင်လျက် နေစဉ်
၈ တွင်-လူပျိုတို့သည်ငကိုမြင်သဖြင့်၊ဝှန်းရှောင်၍
နေကြ၏။ အသက် ကြီးသူတို့သည်ထ ည်း ထ၍
၉ မတ်တတ် နေကြ၏။- မင်းသားတို့သည် စကား
မပြောဘဲနေ၍၊ မိမိတို့နှုတ်ကိုလက်နှင့်ပိတ်ကြ
၁၀ ၏။-မှူးမတ်တို့သည်လည်းတိတ်ဆိတ်စွာနေ၍၊
၁၁ သူတို့လျှာသည် အာခေါင်၌ကပ်လေ၏။- လူတို့
သည် ငစကားသံကို ကြား သောအခါ ကောင်း
ကြီးပေးကြ၏။ ငကိုမြင်သောအခါ ချီးမွမ်း ကြ
၁၂ ၏။- အကြောင်းမူကား၊ ငါသည် ဆင်းရဲသော
သူ၊ မိဘမရှိသော သူ၊ ကိုးကွယ်ရာ မရသော သူ
၁၃ အော်ဟစ်သောအခါကယ်တင်တတ်၏။- ပျက်
လုသောသူ ကောင်း ကြီးပေး ခြင်းကို ငါခံရ၏။
၁၄ မုဆိုးမ စိတ်နှလုံးကို ရွှင်လန်းစေ၏။- ဖြောင့်
မတ်ခြင်းပါရမီကိုအဝတ်လုပ်၍ငါဝတ်ဆင်၏။
၁၅ တရားသည် ငဝတ်လုံ၊ငပေါင်းဖြစ်၏။- မျက်စိ
ကန်းသောသူတို့အား ငါသည်မျက်စိဖြစ်၏။ ခြေ
၁၆ ဆွံ့သောသူတို့အားခြေဖြစ်၏။- ဆင်းရဲသောသူ
တို့၏အဖဖြစ်၏၊အသိအကျွမ်းမရှိသောသူတို့၏

၁၇ အမှုကိုငါရှာ၍ထောင်၏။ မတရားသောသူ၏အံ
သွယ်တို့ကိုငါရိုး၍၊ သူလုယူကိုက်ထားသော အ
၁၈ ရာကိုနှုတ်၏။ ငါသည် ကိုယ်အသိုက်၌ သေရ
သောအခွင့်ရှိလိမ့်မည်။ ငါ၏အသက်ရှင်သောနေ့
ရက်တို့သည်သဲသုံးနှင့် အမျှများပြား လိမ့်မည်
၁၉ ထုတောင်းခဲ့၏။ ငါ၏မြစ်သည် ရေနားမှာပြန့်
ပွား၏၊ ဆီးနှင်းသည် တညဉ့်လုံး ငါ၏ခက်အ
၂၀ ထက်၌ ကျ၏။ ငါ့ဘုန်းသည် အစည် ပွင့် ထန်း
လျက်၊ ငါ့လေးသည်ထည်းငါ့လက်၌ အားဖြည့်
၂၁ လျက်ရှိ၏။ လူတပါးတို့သည် ငါ့စကားကို နား
ထောင်၍၊ ငါပေးသော အကြံ ကို ငံ့ထင့် လျက်
၂၂ ထိတ်ဆိတ် စွာ နေကြ ၏။ ငါ ပြောပြီး သည်
နောက် သူတို့သည်ပြန်၍ မပြော၊ ငါ့စကား သည်
၂၃ သူတို့အပေါ်မှာရေစက်ကဲ့သို့ ကျ၏။ မိုဃ်းရေ
ကိုငံ့ထင့် သကဲ့သို့ ငါ့ကို ငံ့ထင့်လျက်၊ နောက် ကျ
သော မိုဃ်းရေကို ခံချင် သကဲ့သို့၊ သူတို့သည်ပ
၂၄ ခံကိုကျယ်ကျယ် ဖွင့်လျက်နေကြ၏။ ငါသည်
ပြုံးလျက် သူ တို့ကို ကြည့်ရှု သော အခါ၊ သူတို့
သည်မယုံနိုင်ကြ၊ ငါ့မျက်နှာ၏အလင်းကိုသည်း
၂၅ မမှောက်စေကြ။ ငါသည်သူတို့လမ်းကိုရွေးချယ်၍
အမြတ်ဆုံးသောနေရာ၌ထိုင်၏။ မိုလ်ခြေအလုံး
အရင်း နှင့် တကွ ရှင် ဘုရင် ကဲ့သို့ နေ၏၊ ညိုးငယ်
သော သူတို့ကို နှစ် သိမ့် စေသော သူကဲ့သို့ နေ၏ငါ
ဖြစ်၏။

၃၀

၁ ယခုမူကား၊ ငါထက်အသက်ငယ်သောသူတို့
သည်ငါ့ကိုကဲ့ရဲ့ တတ်ကြ၏၊ သူတို့အဖများကိုငါ
သည်ရွံရှာ၍၊ သိုးစုကိုစောင့်သော ခွေးတို့တွင်
၂ မျှနေရာမပေး။ သူတို့သည်အစွမ်းသတ္တိကုန်ပြီး
၍၊ အဘယ်အကျိုးကိုအဘယ်သို့ဆောင်ရွက်နိုင်သနည်း။
၃ ဆင်းရဲငတ်မွတ်သောကြောင့်၊ သူတပါးများနှင့်
မပေါင်းဘော်၊ နုတ်နဲ့သော တော အရပ်နှင့် လူ
၄ ဆိတ်ညံ့ရာ အရပ်သို့ ပြေးကြ၏။ စားစရာအို့မြို့
စုတ်နွားမှာ မလွှာမြိတ်ကိုရိတ်၍၊ ရသမ် မြစ်ကို
၅ ထည့်ထုးကြ၏။ လူနေရာမှနှင်ထုတ်ခြင်းကိုခံ
ရ၍၊ သူခိုးကိုလိုက်သကဲ့သို့ သူတပါးတို့သည်
၆ ဟစ်၍ အော်ဟစ်ကြ၏။ ကြောက်မက် ဖွယ်
သောချောင်ကြား၊ မြေတွင်း၊ ကျောက်ခေါင်း၌
၇ နေကြ၏။ မြို့စုတ်တောထဲမှာမြည်တမ်းလျက်၊
၈ ချုံပင် တောထဲမှာ စုဝေး လျက် နေကြ၏။ လူ
မိုက်သား၊ လူယုတ်သား ဖြစ်၍၊ အရပ်ရပ်နှင့်
ထုတ်ခြင်းကိုခံရကြ၏။

၉ ယခုမူကား၊ ငါသည်သူတို့သီချင်း ဆိုရာ၊ ကဲ့ရဲ့
၁၀ စုံမိုင်းရာဖြစ်ပါသည်တကား။ ငါ့ကို ရွံရှာ၍ဝေး
စွာရှောင်တတ်ကြ၏။ ငါ့မျက်နှာကိုတံထွေးနှင့်မ
၁၁ ထွေး တဲ မနေကြ။ ဘုရားသခင်သည်ငါ့ကို လေး
နှင့်ပြစ်၍ ညှဉ်းဆဲတော် မူသောကြောင့်၊ သူတို့
သည် ငါ့ရှေ့မှာ ဇက်ကြိုးကို ဖွတ်တတ် ကြ၏။
၁၂ လူငယ်တို့သည်ငါ့လက်ျာဘက်၌ထ၍၊ ခြေကို
တွန်းကြ၏၊ ငါ့ကိုဖျက်ဆီးခြင်းငှါလမ်းဖို့ကြ၏။
၁၃ ငါ့လမ်းကိုဖျက်၍ ငါ့ကိုသဲစေခြင်းငှါ ကြိုးစားကြ
၁၄ ၏။ သူတို့တွင် သတိပေးသော သူ မရှိ။ ကျယ်
သောတွင်း ပေါက်၌ ဝင်သကဲ့သို့၊ ငါ့ကိုတိုက်၍
ပြိုဖျက်ရာကိုမိုထွဲ့လျက်၊ ငါ့ထံသို့တလုံ့တည်း
၁၅ ပြေးလာကြ၏။ ကြောက်မက် ဖွယ်သော အရာ
တို့သည် ငါ့အပေါ်သို့ရောက်၍၊ လေလိုက် သကဲ့
သို့ငါ့ဘုန်းကိုလိုက်သဖြင့်၊ ငါ့စည်းစိမ်သည်မိုဃ်း
တိမ်ကဲ့သို့လွင့်ကုန်ပြီ။
၁၆ ယခုမူကား၊ ငါ့နှစ်လုံးကြေကွဲပြီ၊ ဒုက္ခဆင်းရဲ
၁၇ ခံရာကာလသည် ငါ့ကိုမှီပြီ။ ညဉ့်အခါ ငါ့အရိုး
တို့သည်အထွန့်ကိုက်ခဲ၍၊ ငါ့ကြောတို့ သည်
၁၈ သက်သာခြင်းမရှိရကြ။ ငါ့နာသည်ပြင်းထန်
သဖြင့်၊ အဝတ် နှင့် ဖုံး လွှမ်း သကဲ့သို့၊ ငါ့ ဖုံး
လွှမ်း၍ အင်္ကျီလည်စွပ်ကဲ့သို့ ငါ့ကို စည်းလျက်
၁၉ နေ၏။ ငါ့ကို ရွှံ့ ထဲသို့ တွန်း ချတော် မူသဖြင့်၊ ငါ
သည် မြေ မှုန့်နှင့် မီးဖိုပြာ ကဲ့သို့ ဖြစ်လေ ပြီ။
၂၀ ကိုယ်တော်အားအကျွန်ုပ်အော်ဟစ်သော်လည်း
ကြားတော်မမူ။ အကျွန်ုပ် သည် မတ်တတ် နေ
၂၁ သော်လည်းမှတ်တော်မမူ။ အကျွန်ုပ်ကိုကြမ်း
တမ်း စွာ ပြု၍၊ အားကြီးသော လက် တော် နှင့်
၂၂ ညှဉ်းဆဲတော်မူ၏။ အကျွန်ုပ်ကိုချီ၍သွား၍၊ လေ
ကိုစီးစေသဖြင့်၊ အကျွန်ုပ်၏ ကိုယ်ခန္ဓာကိုဖြုတ်
၂၃ ဖွင့်တော်မူ၏။ သေခြင်းသို့၎င်း၊ အသက်ရှင်
သော သူခပ်သိမ်းတို့ အမှီ စီရင် သော နေရာသို့
၎င်း၊ အကျွန်ုပ် ကို ပို့ဆောင် တော် မူမည်ဟု အ
၂၄ ကျွန်ုပ် သိပါ၏။ ဘုရားသခင်သည် ထက်ဆန့်
တော်မူသောအခါ၊ တောင်းပန်သော်ထည်း အ
ချည်းနှီး ဖြစ်၏။ ဖျက်ဆီးတော် မူသော အခါ၊
၂၅ အော်ဟစ်သော်လည်းကျေးဇူးမရှိ။ အမှုရောက်
သောသူအတွက် ငါငိုကြွေးဘူးပြီ မဟုတ်လော။
ဆင်းရဲသောသူအတွက် ငါစိတ်နာခြင်းဘူးပြီမ
၂၆ ဟုတ်လော။ ထိုသော်လည်း၊ ငါသည် ကောင်း
ကျိုးကိုမျှော်လင့်သောအခါဘေးရောက်လာ၏။
အလင်းကို တောင့်တသောအခါ မှောင်မိုက်ဖြစ်

၏- အေသည်း ထည်ပူလောင်၍ ငြိမ်းခြင်းမရှိ။
၂၉ ရုံးမှုဆင်းရဲခံရာကာလသည်ကိုတွေ့ပြီ။- နေ
ရောင် ကွယ်၍ မှောင်မိုက်၌ ဗျည် လည် ရ၏။
ပရိသတ်အလယ်၌မတ်တတ်နေ၍ကျွေးကြော်
၃၀ ရ၏-ခြေခွေးထို့နှင့်ညီအစ်ကိုတော်၏။ ကုထား
၃၁ ငှက်ငှက်ထိုနှင့်ပေါင်းဖော်ရ၏။-အဆင်းမည်း
တွက်အမှိုး ပူလောင်ကျက်မှိ၏။ စောင်းသည်
ညည်း တွားသော အသံ၊ ပုလွေသည် ငိုကြွေး
သောအသံကိုသာပေးတတ်၏။

၃၁

၁ ငါသည်အပျိုကိုမှုမကြည့်ရှုမည်အကြောင်း၊
ကိုယ်မျက် မိနှင့် ပဋိညည် ဝန်ခံခြင်းကို ပြုပြီ။-
၂ ထိုမတုတ်၊ အထက်အရပ်ကဘုရားသခင်သည်
အထယ်ကျေးရူးကိုငှင်၊ မြင့်ရာအရပ်ကအနန္တ
တန်ခိုးရှင်သည်အထယ်သို့သောအမွေဥစ္စာကို
၃ ငှင်ပေးတော်မူမည်နည်း။- ဆိုးသောသူတို့သည်
ဖွက်စီးခြင်းသို့၄င်၊ မတရားသဖြင့်ကျင့်သောသူ
တို့သည်ဆုံးရှုံးခြင်းသို့၄င်၊ ရောက်ရကြမည်မ
၄ ဟုတ်သော။-ဘုရားသခင်သည်ငါသွားရာထမ်း
ကိုကိုမြင်တော်မူသည်မဟုတ်သော၊ ခြေချာရှိ
ထမှုထိုကိုရေတွက်တော်မူသည်မဟုတ်သော။-
၅ မုသာ ထမ်းသို့ ငါလိုက်မိသော်၄င်၊ လှည့်စား
၆ ခြင်းငှါ ငါခြေးမိသော်၄င်- မှန်သောချိန်ခွင်၌ငါ
ကိုချိန်ပါစေ၊ ဘုရားသခင်သည် ငါဖြောင့်မတ်
၇ ခြင်းကို သိတော်မူပါစေ။- ငါသည် ထမ်းလွှဲမိ
သော်၄င်၊ ငါ့မိတ်နှစ်လုံးသည် မျက်မိ အလိုသို့
လိုက်မိသော်၄င်၊ လက်၌ အညစ်အကြေးကပ်
၈ မိသော်၄င်- ငါကြဲသောမျိုးစေ့၏ အသီးအနှံကို
သူတပါး စားပါစေ၊ ငါ့ပျိုး ပင်မှားကိုသူတပါး
၉ နှုတ် ပါစေ။- သူမထားကို ငါတပ် မက်မိသော်
၄င်၊ အိမ်နီးချင်းတံခါးနားမှာ ငါချောင်း မိသော်
၁၀ ၄င်- မယားသည် သူတပါးထံ၌ကြိတ်ဆုံကြိတ်
ရပါစေ၊ သူတပါး သည် မယားကို ရှုတ်ချပါ
၁၁ စေ။- ငါသည်ထိုသို့ပြုမိလျှင်အပြစ်ကြီး၏၊ ရာဇ
၁၂ ဝတ်ခံထိုက်သောအပြစ်ရှိ၏။-ထိုအပြစ်သည်အ
ထုန်အစင်လောင်သောမီး၊ စည်းစိမ်ရှိသမျှကို
၁၃ သုတ်သင် ပယ်ရှင်းသောမီးဖြစ်၏။- ကျွန်နှင့်
ကျွန်မသည် ငါနှင့်တရားတွေ့စရာ အမှုရှိသော
၁၄ အခါ၊ ငါနားမထောင်ဘဲ နေမိလျှင်- ဘုရား
သခင်ထတော်မူသောအခါ၊ အထယ်သို့ငါပြုရ
မည်နည်း။စစ်ကြောတော်မူသောအခါ၊အထယ်
၁၅ ထို့ပြန်လျှောက်ရမည်နည်း။- ငါ့ကိုဖန်ဆင်း
တော်မူသောဘုရားသည် ထိုကိုထည့်မှန်ဆင်း
တော်မူသည်မဟုတ်သော။ ထပါးထည့်သော
ဘုရားတည်ငါတို့နှစ်ယောက်ကို အမိဝမ်းထဲ၌
ဖန်ဆင်းတော်မူသည်မဟုတ်သော။
၁၆ ငါသည်ဆင်းရဲသား တောင့်တသောအရာကို
မပေးဘဲ နေဘူးသလော။ မုဆိုးမမျက်စိကိုမှုတ်
၁၇ စေခြင်းငှါ ပြုဘူးသလော။- မိဘမရှိသောသူကို
အား စားစရာကို မမျှဘဲ၊ ငါ တယောက် တည်း
၁၈ စားဘူးသလော။- ဆင်းရဲသားသည်အဖထံမှာ
နေ ယကဲ့သို့၊ အထက် ငယ်စဉ် ကာလမှစ၍၊
ငါနှင့်အတူကျွေးမွေးခြင်းကိုခံပြီ၊ ငါသည်မွေး
၁၉ မြင်သောနေ့မှစ၍ မုဆိုးမကိုမစပြီ။- အဝတ်မရှိ
သောကြောင့် သေခြင်းသို့ ရောက်သောသူ တစုံ
တယောက် နှင့်၊ ခြုံစရာ မရှိဘဲ ဆင်းရဲ၍သော
၂၀ သောသူ တစုံ တယောက်ကို ငါမြင်၍- သူ၏ခါး
သည်ကျေးဇူးကြီးမပေးဘဲ ထိုးနွေးသောမြင်
၂၁ မနွေးဘဲနေသော်၄င်- ရုံးတော်တွင် ထောက်မစရာ
သောမင်းကိုငါသည်မြင်၍၊ မိဘမရှိသောသူကို
၂၂ ဖြုတ်ဆဲမိသော်၄င်-ထေတ်မောင်းသည်ပခုံးမှ
၂၃ ကျပါစေ၊လက်ရိုးကျိုးပါစေ။- ငါသည်ဘုရား
သခင် ဖျက်ဆီး တော် မူခြင်း ဘေးကို ကြောက်
၍၊ တန်ခိုးအာနုဘော်တော်ကြောင့်မပြုမှား
၂၄ ဝံ့ဘဲနေပါပြီ။- ငါသည်ရွှေကိုကိုးစား၍၊ ရွှေစင်
အား သင်သည် ငါမှီခိုရာဖြစ်၏ဟု ဆိုမိ သော်
၂၅ ၄င်- ငါ၌ စည်းစိမ်ကြီး၍ များစွာသော ဥစ္စာရ
တတ် သောကြောင့်၊ ငါဝါကြွားဝမ်းမြောက်မိ
၂၆ သော်၄င်- ရောင်ခြည်ထွက်သောနေ့ကွန်းထင်
ထွက်သွားသောလကို ငါကြည့်ရှုသော အခါ-
၂၇ ငါ့စိတ် နှစ်လုံးသည် ထိတ်ထိတ်စွာ နှုတ်ဆက်၍၊
၂၈ လက်ကို ငါနမ်းမိသော်၄င်- ရာဇဝတ် စီရင်ထိုက်
သော အပြစ် ရှိ၏၊ အထက် အရပ်၌ ရှိတော် မူ
သော ဘုရားသခင်ကို ငြင်းပယ်ရာ ရောက်၏-
၂၉ ငါ့ကို မုန်းသောသူသည် ဖျက်စီးသောအခါ၊ ငါ
ဝမ်းမြောက်သလော၊ သူ၌ဘေးရောက်သောအ
၃၀ ခါ၊ငါဝါကြွားသလော။-ငါသည်သူ့အသက်ကို
ကျိန်ဆဲ၍၊ ကိုယ်နှုတ်၌အပြစ်ရောက်စေခြင်းငှါ
၃၁ အခွင့် မပေး။- အိမ်သူ အိမ်သား တို့က၊ အ
ထယ်သူသည်ငါတို့ထမင်းကိုမစဲဘဲဝမ်းမတင်း
ဘဲ မဝဘဲနေရသနည်းဟု၊ မဆိုတတ်သလော။-
၃၂ ဧည့်သည် ထည့်ထမ်း၌ ညဉ့်ကို မရှောင်ရစေဖြ
ကြောင်း၊ ငါသည်ခရီးသွားသောသူတို့အား
၃၃ ကိုယ်တံခါးကိုဖွင့်ထား၏။- ငါသည်လူဖြစ်သော



 

သကဲ့သို့၊ ကိုယ်ရင်စရိုက်ကိုဖုံး၍၊ ကိုယ်ရင်ထဲ၌
၃၄ ကိုယ်အပြစ်ကိုဝှက်ထားဘူးသလော။-ထိုသို့ပြု
မိလျှင်၊ ကြီး၄သော ပရိသတ် ရှေ့မှာငရှက်နှာ
ပျက်ပါစေ။လူအမျိုးမျိုးတို့သည်ငကဲ့ရဲ့၍ငအရှက်
ကွဲပါစေ။ အိမ်ပြင်သို့ မထွက်ဘဲ တိတ်ဆိတ်စွာ
၃၅ နေရပါစေ။- တစုံတယောက်သော သူသည် ငစ
ကားကို နားထောင်ပါ စေသော။ ငလက်မှတ်ကို
ငါပေးမည်။အနန္တတန်ခိုးရှင်သည်ငကိုစစ်ကြော
တော်မူပါစေ။ငတရားတွေ့ဘက်သည်စာထားပါ
၃၆ စေ။- အကယ်စင်စစ်ထိုစာကိုပခုံးပေါ်မှာငါတင်
၃၇ ထားပါမည်။ ပေါင်းကဲ့သို့ ဆောင်းပါမည်။- ငါ
သည် ကိုယ်အပြု အမူ အလုံး စုံတို့ကို ဖော်ပြ ပါ
မည်။ မင်း ကဲ့သို့ အထံ တော်သို့ ချဉ်း ကပ် ပါ
၃၈ မည်။- ငမြေသည်ငကိုအပြစ်တင်သဖြင့်၊အခေါ်
ဟစ်၍လယ်ကြောင်းတို့သည် တညီတညီးမြည်
၃၉ တမ်းသော်ငှင်- စရိတ်မကုန်ဘဲ မြေအသီးအနှံ
ကို ငါစား၍၊ မြေဆိုင်သောသူတို့ကို ညှည်းဆဲမိ
၄၀ သော်ငှင်-စပါးပင်အတွက်ဆူးပင်ပေါက်ပါစေ။
မုယောပင် အတွက် ဗောဂျ ပင် ပေါက် ပါ စေဟု
မြွက်ဆို၏။ ။ယောဘမြွက်ဆိုသောစကား
ပြီး၏။

၃၂

၁ ထိုသို့ယောဘသည် မိမိဖြောင့် မတ်သည် ဟု
ထင်သောကြောင့်၊ ထိုသူသုံးယောက် တို့ သည်
၂ ပြန်၍ မပြောဘဲနေကြ၏။- ထိုအခါဗုဇအမျိုး၊
အာရအနွယ်ဖြစ်သောဗာရခေလသားဧလိဟု
သည် အမျက် ထွက်၏။ ယောဘ သည် ဘုရား
သခင်ထက် မိမိဖြောင့်မတ်ကြောင်းကို ပြသော
၃ ကြောင့်၊ယောဘကိုအမျက်ထွက်၏။- ယောဘ
၏ အဆွေခင်ပွန်း သုံးယောက်တို့သည် ပြန်၍ မ
ပြောနိုင်သော်လည်း၊ ယောဘ၌ အပြစ်ရှိသည်
ဟု စီရင် ကြသောကြောင့်၊ သူတို့ ကိုလည်း အ
၄ မျက် ထွက်၏။- ဧလိဟု သည် သူတို့ ထက် အ
သက် ငယ် သော ကြောင့်၊ ယောဘ ပြော သော
စကား မကုန်မှီ တိုင်အောင် ဆိုင်းလင့်လျက် နေ
၅ ၏။- ထိုသူသုံးယောက်တို့သည်ပြန်၍ပြောစရာ
စကား မရှိ ကြောင်း ကို သိမြင်သော အခါ အ
၆ မျက်ထွက်လေ၏။- ထိုအခါ ဗုဇအမျိုးဗာရခေ
လသားဧလိဟုမြွက်ဆို သည်ကား၊ ငါသည်အ
သက် ငယ်ပါ၏။ သင်တို့သည် အတွန် အသက်
ကြီးပါ၏။ ထိုကြောင့်ငါသည်ကြောက်၍ ကိုယ်
၇ သဘောကို မပြဝံ့ဘဲနေပါပြီ။- နေ့ရက် ကာလ
ထာရှည်သောသူသည် စကားပြောအပ်၏။ နှစ်
ပေါင်းများစွာလွန်သောသူသည် ပညာကိုသွန်
၈ သင်အပ်၏။- သို့ရာတွင်၊ လူထဲ၌ ဝိညာဉ်ရှိ၏။
ဘုရား သခင် အ သက် ရှင် စေ တော် မူ သ ဖြင့်
၉ ဉာဏ်ရှိ၏။- လူကြီးတို့သည် အစဉ်ပညာရှိ
သည် မဟုတ်၊ အသက်ကြီးသော သူ အပေါင်း
တို့သည် မှန်သော တရားကို နားလည်သည် မ
၁၀ ဟုတ်။- သို့ဖြစ်၍၊ ငစကားကို နားထောင် ကြ
လော့။ ငါသည် ကိုယ် သဘော ကို လည်း ပြပါ
မည်။
၁၁ သင်တို့စကားကို ကြားရအံ့သောငှါ ငါဆိုင်း
လင့်ပြီ။ သင်တို့သည်ပြောစရာကိုရှာဖွေ၍ဆွေး
၁၂ နွေးသောစကားကိုငါနားထောင်ပြီ။-စေ့စေ့နား
ထောင်စဉ်တွင်၊ ယောဘကိုအထယ်သူမျှမနိုင်၊
၁၃ သူ၏စကားကိုအထယ်သူမျှမချေ။- သို့ဖြစ်၍ငါ
တို့သည်ပညာကိုရှာ၍တွေ့ပြီဟု သင်တို့ဆိုစရာ
မရှိ။ ယောဘကိုနှိမ့်ချသောသူကား လူမဟုတ်၊
၁၄ ဘုရားသခင်ပေတည်း။- ယောဘသည်ငကိုရည်
စောင်၍ ပြောပြီမဟုတ်။ သင်တို့ပြန်ပြောသည်
၁၅ အတိုင်း ငါ ပြန် ပြော မည် မဟုတ်။- ဤသူတို့
သည် မိန်းမော တွေဝေ လျက် ပြန်၍ မပြောဘဲ
၁၆ တိတ်ဆိတ်စွာနေကြ၏။-ငါဆိုင်းလင့်သည်တွင်
သူတို့သည်နှုတ်မမြွက်၊ ပြန်၍မပြောဘဲငြိမ်ငြိမ်
၁၇ နေကြ၏။- သို့ဖြစ်၍၊ငါသည်ကိုယ်အတွက်ပြန်
၁၈ ပြောမည်။ ကိုယ်သဘောကိုပြမည်။- ငါသည်
ပြောစရာ စကားနှင့်ပြည့်ဝ၏။ အတွင်း ဝိညာဉ်
၁၉ နှိုးဆော် ခြင်းကို ခံရ၏။- ငဝမ်းသည် ဝိတ်ဆို့
သောစပျစ်ရည်နှင့်တူ၏။ အသစ်သော သားရေ
၂၀ ဘူး ကွဲလုသကဲ့သို့ဖြစ်၏။- ငါသည် သက်သာ
ခြင်းငှါမြွက်ဆိုရမည်။ နှုတ်ကိုဖွင့်၍ပြန်ပြောရ
၂၁ မည်။- အထယ်သူ၏ မျက်နှာကိုမျှ မထောက်၊
အထယ် သူကိုမျှ ချီးမွမ်းသောစကားနှင့် မချော့
၂၂ မော့။- သူတပါးကို ချီးမွမ်းသော စကားနှင့်မ
ချော့ မော့ တတ်။ ထိုသို့ ပြုလျှင်၊ ငကို ဖန်ဆင်း
တော်မူသောဘုရားသည်ငကိုချက်ချင်းပယ်ရှား
တော်မူမည်။

၃၃

၁ သို့ဖြစ်၍အိုယောဘ၊ ငါမြွက်ဆိုသောစကား
၂ အလုံးစုံ တို့ကို နားထောင် နားယူ ပါ လော့။- ငါ
သည် ယခုနှုတ်ကိုဖွင့်၍၊လျှာနှင့်မြွက်ဆိုသော
၃ အခါ-ငါသဘောဖြောင့်သည်နှင့်အညီငစကား
ဖြောင့်လိမ့်မည်။ ငနှုတ်သည် ရှင်းလင်း သော

၄ ပညာစကားကိုမြွက်ဆိုလိမ့်မည်။-ဘုရားသခင်
၏ ဝိညာဉ်တော်သည် ငါ့ကိုဖန်ဆင်းတော် မူပြီ။
အနန္တတန်ခိုးရှင်၏ အသက်တော်သည် ငါ့ကိုအ
၅ သက် ရှင်စေ တော် မူပြီ။- သင် သည် တတ် နိုင်
လျှင်ငါ့ကိုပြန်ပြောလော့။ကိုယ်စကားကိုစွန်ထင်
၆ လော့။ ကြံ့ခိုင်စွာ ရပ်နေလော့။- ဘုရားသခင်ရှေ့မှာ ငါ
သည်သင် နှင့်တူ၏။ ငါသည်လည်း မြေမှုန့်ဖြင့်
၇ ဖန်ဆင်းတော်မူရာဖြစ်၏။- သင်သည်ကြောက်
ရွံ့ရမည့် အကြောင်း။ ငါ၌ ကြောက်မက် ဖွယ်
သော အမှုမရှိ။ သင့် အပေါ်မှာ ငါ ထည့် သော
၈ ဝန် ထုပ် ကို မ တင်။- အကယ် စင်စစ် သင့်
စကားသံကို ငါကြားသည် အတိုင်း။ သင်မြွက်
၉ ဆိုသော စကားဟူမူကား။- ငါသည် စင်ကြယ်
သောသူဖြစ်၏။ပြစ်မှားခြင်းကိုမပြုတတ်။ငါ
၌အပြစ်မရှိ။ သန့်ရှင်းခြင်းရှိ၏။- ဘုရား သခင်
သည် ငါ၌ အပြစ်တင်ခွင့်ကိုရှာတော်မူ၏။ ငါ့ကို
၁၁ ရန်သူ ကဲ့သို့ မှတ်တော် မူ၏။- ငါ့ ကို ထိတ်ခတ်
တော်မူ၏။ ငါသွားရာ လမ်းရှိသမျှတို့ကို စောင့်
၁၂ တော်မူ၏ဟု ဆိုမိပြီ။- ထိုသို့ဆိုသော်မှားပြီ။ငါ
ပြန်ပြောသောစကားဟူမူကား။ အကယ်စင်စစ်
ဘုရားသခင်သည်လူထက်ကြီးမြတ်တော်မူ၏။-
၁၃ ဘုရားသခင်နှင့်အဘယ်ကြောင့်ဆန့်ကျင်ဘက်
ပြုသနည်း။ပြုတော်မူသောအမှုတို့၏အကြောင်း
ကိုပြတော်မမူ။
၁၄ ဘုရားသခင်သည်တကြိမ်နှစ်ကြိမ်မြွက်တော်မူ၏။
လူ မရိပ်မိလျှင် နှစ်ကြိမ် ထိုင်အောင် မိန့် မြွက်
၁၅ တော်မူ၏။- လူသည်အိပ်ရာပေါ်မှာလိုက်လျက်
အိပ်ပျော်လျက် နေသောအခါ အိပ်မက် မြင် ၍၊
၁၆ ညည့်ရူပါရုံကိုခံရသောအခါးဖြင့်-ဘုရားသခင်
သည် လူ၏ နားကို ဖွင့်၍ ဆုံးမ ပေးတော် မူတတ်
၁၇ ၏။- ထိုသို့လူသည် မိမိအကြံကို စွန့်စေခြင်းငှါ
၎င်း၊ မာနမာန နှင့် ကင်းလွတ် စေခြင်း ငှါ ၎င်း ပြု
၁၈ တော်မူ၏။- လူ၏အသက်ကိုသင်းချိုင်းတွင်းမှ
ကွယ်ကာ၍၊ ထား ထေး ဖြင့် မသေ စေ ခြင်း ငှါ
စောင့်မတော်မူ၏။
၁၉ လူ သည် အိပ် ရာ ပေါ် မှာ နာခြင်း ဝေဒနာ ကို
ခံရ၍၊ အရိုးရှိသမျှတို့သည်ပြင်းထန်စွာကိုက်ခဲ
၂၀ သဖြင့်- ရိက္ခာ နှင့်မြိန်သော ခဲဖွယ်စားဖွယ်တို့ကို
၂၁ သူ၏ စိတ်ဝိညာဉ်သည် ရွံရှာ၏။- အသားအရေ
ပိန်လျှော့ ကွယ်ပျောက်၍၊ မထင်ရှား သောအ
ရိုး၊ ထွက်လည်း ပေါ်ထြ၏။- အသက် ဝိညာဉ်
သည် သင်းချိုင်းတွင်းနားသို့ရှင်၊ ဖျက်ဆီးသော
၂၃ တမန်တော်ထို့ရှင်ရောက်လု ပြီ။- ထိုရာတွင်၊လူ
ထို့အားတရား၊ထမ်းကိုပြစေခြင်းငှါ၊ တထောင်
တွင် တယောက် ဖြစ်၍၊ တရား စကားကို ပြန် တတ်
၂၄ သော တမန်ရှိလျှင်- ဘုရားသခင်က၊သင်းချိုင်း
တွင်း ထဲသို့ ထိုသူ ကို မ ဆင်း စေ ဘဲ ကယ် တင်
လော့၊ ရွေးရာ အကြောင်းကို ငါတွေ့ပြီဟု၊ က
၂၅ ရုဏာမိတ်ရှိ၍ မိန့်တော် မူသောအားဖြင့်- ထို
သူသည် သူငယ်ထက် အသားအရေ နုထွား၍၊
ပျိုသော အသက် နှင့် တဖန် ပြည့် စုံ လိမ့်မည်။-
၂၆ ဘုရားသခင်ကို ဆုတောင်း၍ ကျေးဇူးတော်ကို
ခံရသဖြင့်၊ ဝမ်းမြောက်သောစိတ်နှင့် မျက်နှာ
တော် ကို ဖူး မြင်ရ လိမ့် မည်။ ဖြောင့် မတ် ခြင်း
ကျေးဇူးကို လူတို့အား ဘုရား သခင် ပေးတော်မူ
၂၇ တတ်၏။- သူကလည်း၊ ငါသည်ပြစ်မှားပါပြီ။
မှန်သောတရားကိုဖောက်ပါပြီ။ သို့သော်လည်း၊
၂၈ ကိုယ် ခံ ထိုက် သော အပြစ်ကို မခံ ရဘဲ- ထင်း
ရှူးတွင်းထဲသို့ ငါ့ကို မဆင်း စေဘဲ ကယ်တင်
တော် မူသဖြင့်၊ ငါ့ အသက်သည် မှောင်မိုက်နှင့်
လွတ်လျက်ရှိ၏ဟု၊ လူ တို့တွင်သိခြင်းဆိုရလိမ့်
၂၉ မည်။ ထိုသို့ ဘုရား သခင်သည် လူတို့၌
၃၀ ရံခါရံခါမှီရင်တော်မူသဖြင့်- ထင်းရှူးတွင်းမှ
နှုတ်ယူ၍၊အသက်ရှင်သောသူတို့၏အလင်းနှင့်
ထင်းစေတော်မူ၏။
၃၁ အိုယောဘ၊ ငါ့စကားကို သတိနှင့်နားထောင်
လော့။တိတ်ဆိတ်စွာနေလော့။ ငါပြောပါမည်။-
၃၂ သို့သော်လည်း ပြောစရာရှိလျှင်ပြန်ပြောလော့။
သင့်ကို အပြစ်လွတ်စေခြင်းငှါ၊ ငါအလိုရှိသော
၃၃ ကြောင့်စကားပြောလော့။- ပြောစရာမရှိလျှင်၊
တိတ် ဆိတ် စွာနေ ၍၊ ငါ့ စကား ကို နား ထောင်
လော့။ ပညာကို ငါ သွန် သင် ပါ မည်ဟု မြွက်
ဆို၏။

၃၄

၁ တဖန် ဧလိဟု ဆက်၍ မြွက်ဆို သည်ကား။-
၂ အကြားအမြင်များသောပညာရှိတို့၊ငါ့စကားကို
၃ နားထောင်နားယူကြလော့။-ခံတွင်းသည်အစာ
ကိုမြည်းစမ်းသကဲ့သို့၊နားသည်စကားကိုစုံစမ်း
၄ တတ်၏။- ငါတို့သည်ကိုယ်အမှုအလိုငှါခံ၍၊
တရားသဖြင့်စီရင်ကြကုန်စို့။ ကောင်းသောအ
ရာကို ကိုယ်တိုင် အားဖြင့် သိမှတ် ကြ ကုန်စို့။-
၅ ယောဘက၊ငါဖြောင့်မတ်၏။ဘုရားသခင်သည်
၆ ငါ့ကို အမှုရှုံးစေတော်မူ၏။- ငါ သည် ကိုယ် အ
ကျိုး ကို မှတ်မိ စေခြင်း ငှါ မုသာ ပြော ရ မည်

တော၊ ငါမပြစ်မှားစေတော်သည်း၊ မထွက်နိုင်
သောအနေရာရောဂါ၌ပါ သည်တကာ၊ထုဆိုမိပြီး–
၇ သောသ နှင့် တူသောသူ တစ်ယောက် ရှိလိမ့်
မည်လော၊ ရေကိုထောတ်သကဲ့သို့ကဲ့ရဲ့ခြင်းကို
၈ ရှိတတ်၏။– မတရားသဖြင့်ကျင့်သောသူတို့နှင့်
ပေါင်းဖော်၍၊ လူဆိုးတို့နှင့် ထွားသောတတ်၏။–
၉ လူသည်ဘုရားသခင်၌ ရွေးလျော၍၊ အကျိုးမရှိ
၁၀ ထုသောသ သည် ဆိုမိပြီ– သို့ဖြစ်၍၊ ညာထ်
ထောင်းသောသူတို့၊ စကားကို နား ထောင်ကြ
သော၊ ခုစမှိုက်သည်ဘုရားသခင်နှင့်ငှင်၊ အပြစ်
၁၁ ထည့် အနန္တတန်ခိုးရှင် နှင့်ငှင်ဝေးပါစေ၊– လူဖြ
သောသ မှ၏ အကျိုးအပြစ်ကို ပေးတော်မူမည်၊
ထူထိုင်းကိုယ်ကျင့်သော အကျင့် နှင့် အလိုက်အ
၁၂ ထွောတ် ခံ စေ တော် မူ မည်၊– တကယ် စင် စစ်
ဘုရား သခင်သည် ခုစမှိုက်ကို ပြုတော်မမူ၊ အ
နန္တတန်ခိုးရှင်သည် တရားသဖြင့် စီရင်တော်
၁၃ မူ၏– မြေကြီးကိုဘုရားသခင်၌ အပ်သူအစ်
အနည်း၊ လောကတစ်ခုလုံးကိုအဘယ်သူစီရင်
၁၄ ဖြူလွှင်သနည်း၊– ဘုရားသခင်သည်လူကိုအလို
တော်မရှိ၍၊ လူ၏အသက် ဝိညာဉ်ကို ရုပ်သိမ်း
၁၅ တော် မူလျှင်– ခပ် သိမ်း သော လူ သတ္တဝါ တို့
သည် ရှုတ်ချင်း သေပျောက်၍၊ မြေမှုန့် သို့တဖန်
၁၆ ရောက် ရ ကြ လိမ့် မည်– ထခု မှာ သင် သည်
ညာထ်ရှိသည်ဖြစ်၍ထင်ခြင်ဦးသော၊ စကား
၁၇ ထိုကိုနားထောင်ဦးလော့၊– တရားကို မုန်းသော
လူသည်အစိုးရရမည်လော၊တရားသဖြင့်စီရင်
၍ တန်ခိုး ကြီး သော သူကို အပြစ် တင်သင့် ထ
၁၈ သော၊– သင်သည်လူဆိုးဖြစ်၏ဟု ရှင်ဘုရင်ကို
၍၊ ထင်ထိုသည် အစစ္စလူဖြစ်ကြ၏ဟု မင်းတို့
၁၉ ထိုရုပ် ဆိုသင့် သလော၊– ထိုမှုမက၊ မင်း တို့၏
ရှုတ်နှာကို ထောက်တော်မမူ၊ ဆင်းရဲသောသူ
ကိုအားနာသည်ထက်၊ ရတတ်သောသူကိုသာ
၍ အားနာတော် မမူသော ဘုရား သခင်ကို မဆို
ထင့်သည် မဟုတ်လော၊ ဘုရားသခင်သည် ခပ်
သိမ်းသော သတ္တဝါတို့ကို ဖန်ဆင်းတော်မူပြီး–
၂၀ ထခဏချင်းတွင် ထတ္တဝါတို့သည် သေတတ်ကြ
၏။ ထန်းခေါင် အချိန်၌ လူမျိုး တစုံ ထမျိုး၊ ဂုန်
ထွေပ် ထွယ် ပျောက်၍၊ အား ကြီးသော လူ သော်
ထည်း အဘယ်သူမျှမပြုဘဲ သုတ်သင်ပယ်ရှင်း
၂၁ ခြင်းသို့ရောက်တတ်၏။– အကြောင်းမူကား၊ လူ
သွားရာ ထစ်းထိုကို ဘုရားသခင်ကြည့်ရှု၍၊ လူ
၂၂ ပြုရာရှိသမျှတို့ကို မြင်တော်မူ၏။– မတရားသ

ဖြင့် ကျင့်သော သူ၏ ပုန်း ရှောင်ရာ မှောင် မိုက်၊
၂၃ သေမင်းအရိပ်တစုံတခုမျှမရှိ။–ဘုရားသခင်ရှေ့
တော်၌ လူသည် တရားတွေ့သောအခါ၊ အထပ်
၂၄ ထပ်စစ်ကြောတော်မူစရာအကြောင်းမရှိ။–အား
ကြီးသောသူတို့ကိုပင်မစစ်ကြောဘဲ ရှိုးဖျက်၍၊
ထုတို့အရာ၌အခြားသောသူကိုခန့်ထားတော်မူ
၂၅ ၏။– ထိုဖြစ်၍ထုတို့ပြုသမျှကိုသိတော်မူသဖြင့်၊
ညဉ့် မှောင်မိုက်ကိုရောက်စေ၍ ဖျက်ဆီးတော်
၂၆ မူ၏။– ထုတို့ အပြစ် ကြောင့် ပရိသတ် ရှေ့ မှာ
၂၇ ဒါဏ်ခတ်တော်မူ၏။– အကြောင်းမူကား၊သူတို့
သည် ဘုရားသခင်ကိုငြင်းပယ်ကြ၏၊ ပြုတော်မူ
၂၈ သောအမှုတို့ကို အလျှင်းမထင်ခြင်ကြ။– ထိုသို့
ပြုသောကြောင့်ဆင်းရဲသားတို့ကျွေးသံသည်ရှေ့
တော်သို့တက်၍၊ ညှဉ်းဆဲခံရသောသူ၏ငိုကြွေး
၂၉ သံကိုကြားတော်မူရ၏။– ဘုရား သခင် သည်
ငြိမ်းသာ ပေး တော် မူလျှင်၊ အဘယ် သူ နှောင့်
ရှက် နိုင်သနည်း၊ မျက်နှာ ဖွဲ့ တော် မူလျှင်၊ လူ
တမျိုး လုံး ဖြစ်စေ၊ တယောက် တည်း ဖြစ်စေ၊
အဘယ် သူသည် မျက်နှာ တော်ကို ဖူးမြင် နိုင်
၃၀ သနည်း။– ထိုသို့ ဆင်းရဲသားတို့ကို မျှားယွင်း
စေမည်အကြောင်း၊ အစဉ္စမင်းထိုကို နှိမ့်ချတော်
မူ၏။

၃၁ အကျွန်ုပ်သည် ဆုံးမတော်မူခြင်းကို ခံရပါပြီ။
၃၂ နောက်တခန်မပြစ်မှားပါ၊–အကျွန်ုပ်နားမလည်
သောအရာကိုသွန်သင်တော်မူပါ၊ ဒုစရိုက်ကိုပြု
မိသည်ဖြစ်၍၊နောက်တခန်မပြုဘဲနေပါမည်ဟု၊
ဘုရား သခင် အား လျှောက် ထင့် သည် မဟုတ်
၃၃ လော၊–သင်သည်ငြင်းပယ်သည်ဖြစ်စေ၊ရွေးယူ
သည်ဖြစ်စေ၊ သင်၏အလိုသို့သာ ဘုရား သခင်
လိုက်၍၊အလိုတော်သို့မလိုက်ဘဲအကျိုးအပြစ်
ကို ပေးတော် မူရ မည် လော၊ ထိုဖြစ်လျှင် နား
၃၄ ထည်သည်အတိုင်းပြောပါ၊– ညာထ် ကောင်း
သော လူ တို့ သည် စကား ပြော ပါစေ၊ ပညာ ရှိ
သောသူတို့သည် ငါ့စကားကိုနားထောင်ပါစေ–
၃၅ ယောသသည်နားမလည်ဘဲပြောမိပြီ၊ ထုပြော
၃၆ သောစကားသည်ပညာစကားမဟုတ်၊–ယောသ
သည် မ တရား သော သူ ကဲ့ သို့ ပြန် ပြော တတ်
သောကြောင့်၊ အဆုံးတိုင်အောင် စုံစမ်းစေခြင်း
၃၇ ငှါငါအလိုရှိ၏၊– ဒုစရိုက် ကိုပြုသည်သာမက၊
ပုန်ကန်သောအပြစ်ရှိသေး၏၊ငါတို့တွင်လက်ခုပ်
တီးကို၍၊ ဘုရားသခင်ကို ပြစ်မှားသောစကား
နှင့်ရှုတ်ချသောစကားတည်းဆိုတတ်၏။

## ၃၅

၁ တဖန် ဧလိဟု ဆက်၍ မြွက်ဆို သည်ကား၊-
၂ ငါသည် ဘုရားသခင်ထက်သာ၍ ဖြောင့်မတ်၏
ဟုဆင်ခြေသောစကားမှန်သည်ထင်သလော။
၃ ထင်က၊ ငါသည်အဘယ်အကျိုးကိုရသနည်း။
ရုစရိုက်ကိုမပြုဘဲနေလျှင်အဘယ်ကျေးဇူးရှိသ
၄ နည်းဟု ဆိုလို၏၊- သင်နှင့်သင်၏ အပေါင်းအ
၅ ဖော်တို့စကားကိုငါချေပါမည်၊- မိုဃ်းကောင်း
ထင်ကိုမျှော်၍၊ သင့်ထက်မြင့်သော မိုဃ်းတိမ်
၆ တို့ကိုကြည့်ရှုလော့၊- သင်သည်ဒုစရိုက်ကိုပြု
တော်သည်။ ဘုရားသခင်ကိုအဘယ်သို့ထိခိုက်
နိုင်သနည်း။ ပြစ်မှားသော အပြစ် များသော်
လည်း၊ အကျိုးတော်ကို အဘယ်သို့ ဖျက်နိုင်သ
၇ နည်း။-သင်သည်ဖြောင့်မတ်သော်လည်း၊ဘုရား
သခင်၏ အကျိုးတော်ကို အဘယ်သို့ပြုစုနိုင်သ
နည်း။သင့်လက်မှအဘယ်ကျေးဇူးကိုခံတော်မူ
၈ မည်နည်း။- သင်ပြုသောဒုစရိုက်သည် သင်နှင့်
တူသော လူတစ္ဆတ္ထဝါကိုသာ ထိခိုက်နိုင်၏၊ သင်
ပြုသော ဒုစရိုက် သည်လည်း လူသားတို့၌ သာ
ကျေးဇူးပြုနိုင်၏။
၉ များပြားသော ညှဉ်းဆဲခြင်းကို ခံရသော သူ
တို့သည် အော်ဟစ်တတ်ကြ၏၊ အားကြီးသော
သူ၏ လက်ကြောင့်၊ ငိုကြွေး အော် ဟစ်
၁၀ တတ်ကြ၏၊- သို့သော်လည်း၊ ငါ့ကို ဖန်ဆင်း
တော်မူသော၊ ညဉ့်အချိန်၌ သီချင်း ဆိုရ
၁၁ သော အခွင့်ကို ပေးတော် မူ သောသ၊- မြေ တိ
ရိစ္ဆာန် နားထည် သည်ထက် သာ ၍ နား ထည်
သောညဏ်နှင့်၎င်း၊မိုဃ်းကောင်းကင်ငှက်မရ၊
ထူးဆန်းသောပညာနှင့်၎င်း၊ ငါတို့ကိုပြည့်စုံစေ
တော်မူသော ဘုရားသခင်သည် အဘယ်မှာ ရှိ
တော် မူ သနည်း ဟု၊ အဘယ် သူမျှ မမေး မြန်း
၁၂ တတ်။- ထိုကြောင့်အစမွလု၊ ထောင်လွှားသော်
ကာမခြင်းကိုခံရ၍အော်ဟစ်သော်လည်း၊ဘုရား
၁၃ သခင်သည်ထူးတော်မမူ၊-အကယ်စင်စစ်ဘုရား
သခင် သည် အချည်း နှီးသော စကား ကို နား
ထောင်တော်မမူ၊ အနန္တတန်ခိုးရှင်သည် ထိုသို့
၁၄ သောစကားကို မမှတ်ဘဲနေတော်မူ၏၊- ဘုရား
သခင်ကို မတွေ့မမြင်ရဟု သင်ဆိုသော်လည်း၊
တရား ထမြင့် စီရင် တော် မူသော ကြောင့် မျှော်
၁၅ လင့်လျက်နေလော့။- ယခုမူကား၊ အမျက်ထွက်
၍ ရှုစစ်တော်မမူ၊ ပြစ်မှားသော အပြစ်ကို ကြုပ်
၁၆ ကြပ်စွာမှတ်တော်မမူသောကြောင့်-ယောဘ
သည် အချည်းနှီးသော စကားကို မြွက်ဆိုတတ်
၏၊ ပညာမရှိဘဲများစွာပြောတတ်သည်ဟုမြွက်
ဆို၏။

## ၃၆

၁ တဖန် ဧလိဟု ဆက်၍ မြွက်ဆို သည်ကား၊-
၂ ငါ့ကိုသည်းခံပါလော့၊ အကျိုးအကြောင်းကိုငါ
ပြဦးမည်၊ ဘုရား သခင် အဖို့ ပြောစရာ ရှိသေး
၃ ၏၊-ငါသည်ဝေးသောအရပ်ကကိုယ်ပညာကို
ဆောင်ခဲ့မည်၊ငါ့ကိုဖန်ဆင်းတော်မူသောဘုရား
သခင်သည် ဖြောင့်မတ်တော်မူကြောင်းကို ငါပြ
၄ မည်၊- အကယ်စင်စစ်မမှန်သောစကားကိုငါ
မပြော၊ ပညာအတတ်စုံလင်သောသူသည် သင်
၌ရှိ၏။
၅ ဘုရား သခင်သည် တန်ခိုးကြီးတော်မူ၏၊ သို့
သော်လည်းမထီမဲ့မြင်ပြုတော်မမူတတ်။အစွမ်း
၆ သတ္တိ၊ ညာဏ် သတ္တိနှင့် ပြည့်စုံတော် မူ၏- မ
တရားသောသူတို့၏အသက်ကိုစောင့်တော်မမူ၊
ဆင်းရဲခံရသောသူတို့ဘက်၌ တရားစီရင်တော်
၇ မူ၏၊- ဖြောင့်မတ်သောသူတို့ကိုပမာဏမပြုဘဲ
နေတော်မမူ၊ ရှင်ဘုရင်နှင့်အတူ ရာဇပလ္လင်ပေါ်
၈ မှာ ထာဝရနေရာချ၍ ချီးမြှောက်တော်မူ၏၊- သူ
တို့သည်အကျဉ်းနေ၍ ဒုက္ခကြိုးနှင့်ချည်နှောင်
၉ ခြင်းကိုခံရလျှင်-သူတို့ပြုမိသောအမှုနှင့်ပြစ်မှား
လွန်ကျူးမိသောအပြစ်များတို့ကိုပြတော်မူ၏၊-
၁၀ ဆုံးမသောစကားကိုနားထောင်ချင်သောသဘော
ကိုသွင်းပေး၍၊ဒုစရိုက်ကိုရှောင်စေမည်အကြောင်း
၁၁ ပညတ်တော်မူ၏၊-စကားတော်ကိုနားထောင်၍
အမှုတော်ကိုဆောင်ရွက်လျှင်၊ စည်းစိမ်ချမ်းသာ
နှင့်ပျော်မွေ့လျက်၊ နှစ်ထနေ့ရက်ကာလကိုလွန်
၁၂ စေ တတ်ကြ၏၊- နား မထောင်လျှင် ထားဘေး
ဖြင့် ဆုံး၍၊ ပညာအတတ် မရှိဘဲ သေ တတ်ကြ
၁၃ ၏၊- အစဉ်းသဘော ရှိသောသူတို့သည်အမျက်
တော်ကို သိုထား တတ်ကြ၏၊ ချည်နှောင် တော်
၁၄ မူသော အခါ မဟော်ဟစ် တတ်ကြ၊- အသက်
ငယ်စဉ် ကပင်သေ၍၊ ဆိုးညစ်သော သူတို့နှင့်
၁၅ အတူဆုံးတတ်ကြ၏၊-အမှုရောက်သောဆင်းရဲ
သားတို့ကို ကယ်တင်တော်မူ၏၊ ညှဉ်းဆဲခြင်း
ကိုခံရသောအခါ၊ နားထောင်စေခြင်းငှါပြုတော်
၁၆ မူ၏၊- ထိုသို့သင့်ကိုလည်း ကျဉ်းမြောင်းသော
အရပ်မှ ကျယ် ဝန်း ရှင်း လင်း သော အရပ် သို့
ပြောင်းစေ၍၊သင်၏စားပွဲပေါ်မှာကောင်းသော
အရသာနှင့်ပြည့်စုံသောစားဖွယ်သောက်ဖွယ်ကိုထော်

၁၇ သော၊ တော်မူလိမ့်မည်။- သို့မဟုတ်၊ မတရား
သောသူကဲ့သို့အပြစ်နှင့်ပြည့်စုံလျှင်၊ အပြစ်နှင့်
၁၈ ရှည် သော ဒါဏ်ကို ခံရမည်။- အမျက်တော်
ထွက်တတ်သည်ဖြစ်၍၊ ဒါဏ်ခတ်တော်မူမည်
ဟု မိုးရိမ်စရာရှိ၏၊ အမှုရောက်မှ များသော အ
ဖိုးကို ပေးသော်လည်း၊ ကိုယ်ကို မရွေးမနှုတ်
၁၉ နိုင်။- သင်၏ဥစ္စာကိုပမာဏပြုတော်မူမည်လော၊
ရွှေကိုမျှ၊ များစွာသောစည်းစိမ်ကိုမျှ ပေးချင်
၂၀ တော် မူသည်။ ပမာဏ ပြုတော်မမူ။- ညဉ့်ကို
မတောင့်တနှင့်၊ ညဉ့် အခါ လူတို့ သည် ပယ်
၂၁ ရှင်းခြင်းကိုခံရတတ်ကြ၏၊ သတိပြုပါ၊ မတရား
သော အမှုကို မငဲ့ကွက် နှင့်၊ ထိုသို့ သော အမှုကို
ဆင်းရဲ ခြင်း ထက် သင် သည် အလိုရှိ လေ ပြီ
တကား။

၂၂ ဘုရားသခင်သည် တန်ခိုးတော်အားဖြင့်ချီး
မြှောက်ခြင်း ရှိတော်မူ၏၊ ဘုရားသခင်ကဲ့သို့အ
၂၃ ဘယ်သူ ဆုံးမနိုင် သနည်း။- ကြွတော်မူရာ
သောလမ်းကို အဘယ်သူ စီရင်သနည်း၊ ကိုယ်
တော်သည် မတရားသော အမှုကို ပြုပြီဟု အ
၂၄ ဘယ်သူဆိုရာသနည်း။-လူတို့သည်ချီးမွမ်းအပ်
သော အမှုတော်ကို ချီးမြှောက် ခြင်းငှါ သတိပြု
၂၅ လော့။- လူခပ်သိမ်း တို့သည် အမှုတော်ကို မြင်
၂၆ ကြ၏၊ အဝေးက ကြည့်ရှု တတ်ကြ၏။- ဘုရား
သခင် သည် ကြီး မြတ် တော် မူ၏၊ ငါတို့ သည်
ဘုရား သခင် ကို မသိ နိုင်၊ အသက် တော် နှစ်
၂၇ ပေါင်းကိုစစ်၍ မကုန်နိုင်ကြ။- ရေကို သုန်ဖျင်း
စေ၍၊ အထက်သို့ဆွဲယူတော် မူသဖြင့်၊ ရေငွေ့မှိုင်း
၂၈ တိုင်အတိုင်း မိုဃ်းရွာတတ်၏။-မိုဃ်းတိမ်မှလူ
တို့အပေါ်သို့ မိုဃ်းပေါက်ကျ၍၊ များစွာသော
၂၉ မိုဃ်းရွာတတ်၏။-မိုဃ်းတိမ်တော် ပြန့်ပြားခြင်း၊
ထဲတော်အသံမြည်ခြင်းကိုအဘယ်သူနားလည်
၃၀ သနည်း။- ထဲတော်အပေါ်မှာ အလင်း တော်ကို
ဖြန့်တော်မူ၏၊ သမုဒ္ဒရာ၌ အနက် ဆုံးသော အ
၃၁ ရပ်ကို လည်း ဖုံး အုပ် တော်မူ၏။- ထိုသို့သော
အားဖြင့်လူမျိုးတို့ကိုတရားစီရင်တော်မူ၏၊ များ
စွာသော အစာ အာဟာရ ကို လည်း ပေးတော်
၃၂ မူ၏။- အလင်းကို လက်တော်နှင့် ကွယ်ကာ၍၊
၃၃ တစ်ခုသော ရန်သူရှိရာသို့ သွတ်တော် မူ၏။- ထိုသူမှ
သော ထိ မိ လွန် များ နှင့် အပယ် များ ကိုအထို
တော်မမှီကြောင်းထင်ရှား၏။

၃၇

၁ ဤအမှုကြောင့် နှလုံးသည် တုန်လှုပ်၍မိမိ
၂ နေရာမှရွေ့သွား၏။- မြည်တော်မူသောအသံနှင့်
နှုတ် တော် မှ ထွက် သော အသံ ကို ဧကမွှေ နား
၃ ထောင်ကြလော့။-မိုဃ်းကောင်းကင်အောက်၌
အနှံ့အပြား လွှတ်၍၊ မြေကြီးစွန်း တိုင်အောင်
၄ လျှပ်စစ် ပြက်စေတော်မူ၏။- လျှပ်စစ် ပြက်ပြီးမှ
အသံတော်ထွက်၏၊ ဘုန်းအာနုဘော်တော်အသံ
နှင့်မိုဃ်းခြိမ်းတော်မူ၏၊ အသံတော်မြည်သော
အခါမိုဃ်းသက်စုန်ထိုင်းကိုချုပ်တည်းတော်မ
၅ မူ။- ထုံးခြားဖွယ်သော အခြင်းအရာ ပါလျက်၊
ဘုရား သခင် သည် အသံ တော် နှင့် မိုဃ်း ခြိမ်း
တော်မူ၏၊ ကြီးသော အမှု၊ ငါတို့နားမလည်နိုင်
၆ သောအမှုတို့ကိုပြုတော်မူ၏။-မြေပေါ်မှာဖြစ်စေ
ဟု၊ မိုဃ်းပွင့်ကိုရင်း၊ သုန်ဖျင်းသောမိုဃ်းရေနှင့်
တန်ခိုးတော်ကြောင့်၊ ပြင်းထန်သော မိုဃ်းရေ
၇ ကိုရင်မိန့်တော်မူ၏။- ဖန်ဆင်းတော် မူသောလူ
အပေါင်း တို့သည် ကိုယ် တော် ကို သိမည် အ
ကြောင်း၊ လူတိုင်းလုပ်သောအလုပ်ကို ဆီးတား
၈ တော်မူ၏။-ထိုအခါသားရဲတို့သည်မြေတွင်းထဲ
၉ သို့ဝင်၍၊ သူတို့နေရာ၌နေတတ်ကြ၏။-လေပွေ
သည်တောင်မျက်နှာမှရင်း၊အရှုပ်သည်မြောက်
၁၀ မျက်နှာမှရင် ထွက်လာ တတ်၏။- ဘုရားသခင်
မှုတ်တော်မူသဖြင့်၊ရေခဲဖြစ်၍ရေမျက်နှာသည်
၁၁ ခဲလျက်ရှိ၏။- မိုဃ်း တိမ်မှ မိုဃ်းရေကို ထုတ်
ရောက်စေ၍၊ ရောင်ခြည်တော် အားဖြင့် မိုဃ်း
၁၂ တိမ် ကို ပျောက် လွင့် စေ တော်မူ၏။- လောက
ဓာတ်မြေကြီး တပြောက်လုံးကိုမှာထားတော်မူ
သမျှအတိုင်းပြုစေခြင်းငှါ၊ ပညာတော်အားဖြင့်
၁၃ လှည့်လည်စေတော်မူ၏။- ဒါဏ်ခတ်တော်ရင်း၊
မြေတော်ကိုပြုစုသော်ရင်း၊ချစ်သောပေးတော်ရင်း
ထားစေတော်မူ၏။

၁၄ အိုယောဘ၊ ဤစကားကို နား ထောင် လော့၊
ဘုရား သခင်၏ ထုံးဖွယ် သော အမှု တော် တို့ကို
၁၅ ငြိမ်ထက်စွာကြံ၍ထင်မြင်လော့။- ထိုအမှုတို့ကို
ဘုရားသခင်စီရင်၍၊မိုဃ်းတိမ်တော်အလင်းကို
ထွန်းလင်း စေတော် မူသောအခါ၊ သင်သည် သိ
၁၆ သလော။- ပညာ စုံလင် သော ဘုရား၏ ထုံးဖွယ်
သော အမှုတော်တည်း၊ ထူသော မိုဃ်း တိမ်တို့
သည်မပေါ့မလေး၊မှန်မှန်မိုးမည့်အကြောင်းကို
၁၇ တော်မူသောအမှုကိုရင်း- မြေပေါ်မှာတောင်လေ
ဖြင့်အချမ်း ပျောက်စေ တော်မူသောအခါ၊ သင်
၏အဝတ်သည် အဘယ်သို့သောအားဖြင့် နွေး
၁၈ သည်ကိုရင် နား လည် သလော။- ထွန်း သော

ကြေးမုံကဲ့သို့ တည်လျှက်ရှိသော မိုဃ်းကောင်း
ကင်ကို၊ သင်သည် ဘုရား သခင်နှင့် ဝိုင်း ညီ၍
၁၉ ဖြန့်သလော။- ငါတို့သည်အဘယ်သို့လျှောက်
ရမည်ကို ဘွန် သင်ပါ။ ငါတို့သည် မိုက်သော
ကြောင့်၊ အထိုအလျှောက်မလျှောက်တတ်ကြ။-
၂၀ ငါပြောသောစကားကိုဘုရားသခင်အား ကြား
လျှောက် လိမ့် မည် လော။ အကယ်၍ လူသည်
ဘုရား သခင်ကို လျှောက် ဝံ့လျှင်၊ ပျက်စီး ခြင်း
၂၁ သို့ရောက်လိမ့်မည်။- လေသည်လာ၍၊ မိုဃ်း
ကောင်းကင်ကိုရှင်းလင်းစေသောအခါ၊ လူသဦ
ထွန်း လင်းသော ရောင် ခြည်ကို မကြည့် နိုင်။-
၂၂ မြောက်မျက်နှာမှ ရွှေရောင်ခြည် ထွက်တတ်၏။
ဘုရားသခင်သည်ကြောက်မက်ဖွယ်သောဘုန်း
၂၃ အသရေတော်နှင့်ပြည့်စုံတော်မူ၏။- အနန္တတန်ခိုး
ရှင်ကို ငါတို့သည် စစ်၍ မကုန် နိုင်ကြ။ အစွမ်း
သတ္တိအားဖြင့်၎င်း၊ တရား စီရင်ခြင်းနှင့် ဖြောင့်
မတ် ခြင်း အားဖြင့်၎င်း ထူးဆန်း တော်မူ၏။ အ
၂၄ ဘယ်သူကိုမျှ ညှဉ်းဆဲတော်မမူ။- သို့ဖြစ်၍၊ လူ
တို့သည် ကြောက် ရွံ့ စရာ အကြောင်း ရှိကြ၏။
ဉာဏ် ကောင်း သောသူ တစုံတယောက် မျှ
ဘုရားသခင်ကိုမဖူးမကြည့်နိုင်ထုမြွက်ဆို၏။

၃၈

၁ ထိုအခါ ထာဝရဘုရားသည် ယောဘအစကား
ကိုဖြန် ပြန်၍၊ မိုဃ်း သက် ရန် တိုင်း ထဲက မိန့်
၂ တော် မူသည် ကား။- ပညာ မရှိဘဲ စကား ပြော
ကာမျှနှင့် ဆကြံကို မိုက်စေသော ဤသူကား၊
၃ အဘယ်သူနည်း။- လူယောက်ျားကဲ့သို့ သင့်ခါး
ကိုစည်းလော့။ ငါမေးမြန်းသောပြဿနာတို့ကို
၄ ဖြေလော့။- မြေကြီး အမြစ်ကို ငါတည် သောအ
ခါ၊ သင်သည်အဘယ်မှာရှိသနည်း။ နားလည်
၅ လျှင်ပြောလော့။- မြေကြီး အတိုင်း အရှည်၊ ပ
မာဏကို အဘယ်သူ စီရင်သနည်း။- နား လည်
လျှင်ပြောလော့။ ကျည်းကြိုးကိုအဘယ်သူတန်း
၆ ၍ချသနည်း။- မြေကြီး တိုက်မြစ်ကိုအဘယ်အ
၇ ရပ်၌ စွဲစေသနည်း။ နံနက်ကြယ် တို့သည် တညီ
တညွတ်တည်း သီခြင်းဆို၍၊ ဘုရားသခင်သား
အပေါင်းတို့ သည် ဝမ်းမြောက် သဖြင့်၊ ကျွေး
ကြော်ကြစည်၊ တိုက်ထောင့်အထွဋ်ကျောက်ကို
၈ အဘယ်သူ တင်ထားသနည်း။- သမုဒ္ဒရာသည်
အမိဝမ်းထဲကဖွား၍ ထွက်လာသောအခါ၊ အ
ဘယ်သူသည်တံခါးပိတ်နှင့်ပိတ်ထားသနည်း။-
၉ သမုဒ္ဒရာကိုမိုဃ်းတိမ်နှင့်ငါချုပ်၍၊ ထူထပ်သော
၁၀ မှောင် မိုက်နှင့် ထုပ်ရစ်သည် ကာလ၌ ၎င်း- အင်
၁၁ ထည့်၍ အရပ်တိုင်အောင်လာရ၏၊ တိုး၍မထွန်
ရ။ ဤအရပ်၌ သင်၏ ထောင်လွှားသော လှိုင်းတံ
ပိုးဆုံးရ၏ ဟုပညတ်လျက်၊ သမုဒ္ဒရာ အပိုင်းအ
ခြားကိုငါစီရင်၍၊ တံခါးပိတ်နှင့် ကန့်လန့်ကျင်
တို့ကိုထားသည်ကာလ၌၎င်း၊ အဘယ်သူသည်
၁၂ ဝိုင်း၍ ကူညီသနည်း။- သင်သည် တသက် လုံး
တွင်၊ တခါမျှ နံနက် ကို မှာထား ဘူး သလော။
၁၃ မိုဃ်းသောက် ထင်းကိုနေရာချဘူးသလော။- နံ
နက်အလင်းသည် မြေကြီး စွန်းကိုကိုင်လျှက်၊ လူ
ဆိုးတို့ကိုခါ၍ပြစ်စေခြင်းငှါစီရင်ဘူးသလော။-
၁၄ မြေကြီးသည် တံဆိပ်ခတ်သကဲ့သို့ ပုံပေါ်၍၊ အ
၁၅ ဝတ်တန်ဆာဆင်သကဲ့သို့ ရှိ၏။- လူဆိုးတို့၏အ
လင်းသည်ကွယ်၍ ရှိကြွသောလက်ထည်းကျိုး
၁၆ တတ်၏။- သင်သည်သမုဒ္ဒရာ စမ်းရေ ပေါက်ထဲ
သို့ဝင်ဘူးသလော။ နက်နဲသော အောက်ဆုံး အ
၁၇ ရပ်၌လှည့်လည်ဘူးသလော။- သေခြင်းတံခါး
တို့ကိုသင့်အား ဖွင့်ဘူးသလော။ သေမင်း အရိပ်
ထဲသို့ဝင်သော လမ်းဝတို့ကို မြင်ဘူး သလော။-
၁၈ မြေကြီး မျက်နှာ တပြင် လုံးကို ကြည့် ရှု ဘူး သ
၁၉ လော၊ အလုံးစုံကိုသိမြင်လျှင်ဖော်ပြလော့။- အ
လင်း နေ ရာ သို့ အ ဘယ် မည် သော လမ်း ဖြင့်
ရောက် ရသ နည်း။ မှောင် မိုက် နေ ရာ လည်း အ
၂၀ ဘယ်မှာရှိသနည်း။-အကယ်စင်စစ်သင်သည်အ
လင်းအမိုက်အပိုင်းအခြားသို့ငါတို့ကိုပို့ဆောင်
နိုင်၏။ သူတို့နေရာ အိမ်သို့ ရောက်သောလမ်းတို့
၂၁ ကို သိလိမ့်မည်။- သင်သည် ရှေးကာလ၌ ဖွား
မြင်၍၊ အလွန်အသက်ကြီးသောကြောင့်သိလိမ့်
မည်။

၂၂ သင်သည် မိုဃ်း ပွင့် ဘဏ္ဍာ တိုက် ထဲသို့ ဝင်
၂၃ ဘူးသလော။- ဘေးရောက်ရာအချိန် ကာလနှင့်
စစ်ပြိုင်၍၊ တိုက်ရာအချိန်ကာလတို့၊ ငါသိုထား
သော မိုဃ်း သီး ဘဏ္ဍာ များ ကို မြင် ဘူး သ
၂၄ လော။- အလင်းသည်အဘယ်သို့ သောလမ်းဖြင့်
နံ့ပြားသနည်း။ အရှေ့လေသည်မြေကြီးပေါ်မှာ
၂၅ အဘယ်ကြောင့်လွှင့်သနည်း။- လူမရှိသောမြေ
၂၆ နှင့်လူမနေသောတော၌မိုဃ်းရွာစေခြင်းငှါ၎င်း၊
၂၇ လွတ် ထပ် သော လွင်ပြင်ကို ရေနှင့် ဝစေ၍၊ နု
သောမြက်ပင်အညွှောက်ကိုထွက်စေခြင်းငှါ၎င်း၊
လျှံသော မိုဃ်းရေ စီးရာလမ်း၊ မိုဃ်းကြိုးနှင့်
ဆိုင်သော လျှပ်စစ်ပြက်ရာလမ်းကို အဘယ်သူ
၂၈ ဖွင့်သနည်း။- မိုဃ်းရေ၏ အဖကား အဘယ်သူ

နည်း။ နှင်းပေါက်တို့ကို အဘယ်သူ ဖြစ်ပွားစေ
၂၉ သနည်း။- ရေခဲသည်အဘယ်သူ၏ ဝမ်းထဲက
ထွက်လာသနည်း။ မိုဃ်းကောင်းကင်နှင်းခဲကို
၃၀ အဘယ် သူသည် ပဋိသန္ဓေ ပေး သနည်း။- ရေ
သည်ကျောက်ခဲကဲ့သို့ ဖြစ်၍၊ ပင်လယ်မျက်နှာ
၃၁ ထင်း မလျှက် ရှိ၏။- သင်သည် မိမကြယ်စု၏
သာ ယာခြင်းကို ချုပ် တည်း နိုင်သ
လော၊ ကသိလကြယ်၏ချည်နှောင်ခြင်းကိုဖြည်
၃၂ နိုင် သ လော။- မာဇရုတ် ကြယ် တို့ ကို အမှန်
ရောက်လျှင်ထုတ်ဖော် နိုင်သလော၊ အာရှကြယ်
၃၃ နှင့်သူ၏ သားတို့ကို ပဲ့ကိုင် နိုင် သလော။- မိုဃ်း
ကောင်း ကင် တရား တို့ ကို နား လည် သ လော၊
ထိုတရားတို့သည် မြေကြီးကို အုပ် စိုး မည် အ
၃၄ ကြောင်း၊အခွင့်ပေးနိုင်သလော။-များစွာသော
မိုဃ်းရေသည်သင့်ကိုဖုံးအုပ်စေခြင်းငှါမိုဃ်း
၃၅ တိမ်တို့ကို အသံကြွင့်နိုင်သလော။- လျှပ်စစ်တို့
ကိုလွှတ်နိုင်သလော၊သူတို့ကကျွန်တော်တို့ရှိပါ
၏ဟုသင့်ကို လျှောက်လျက် သွားကြ လိမ့် မည်
၃၆ လော။- ကိုယ်ခန္ဓာထဲသို့ ပညာကို အဘယ်သူ
သွင်းသနည်း။ နားလည် နိုင်သော ဥာဏ်ကိုအ
ဘယ်သူ ပေးသနည်း။ ပညာရှိ၍ မိုဃ်း တိမ်တို့
၃၇ ကို အဘယ်သူ ရေတွက် နိုင် သနည်း။- မြေမှုန့်
၃၈ သည်တုံးတွေး၍၊ မြေစိုင်တို့သည်ကပ်လျက်နေ
သောအခါ၊ မိုဃ်း ကောင်းကင်၏ ရေဘူးတို့ကို
အဘယ်သူသွန်းချသနည်း။
၃၉ သင် သည် ခြင်္သေ့မ အဖို့ စားစရာ အကောင်
၄၀ ကိုလိုက် ရှာ နိုင် သလော၊ ခြင်္သေ့ ပျိုတို့သည် မိ
တို့ ရာ၌ ဝပ်၍၊ ချုံဖုတ် အောက် ၌ ချောင်း ကြည့်
လျက်နေသောအခါ၊ သူတို့ကို ဝစွာ ကျွေး နိုင်သ
၄၁ လော။- ကျီး အ သငယ် တို့ သည် စား စရာ မရှိ
သော ကြောင့်၊ ဗျာညွှ ထည်၍ ဘုရား သခင် ကို
အော် ဟစ်သော အခါ၊ စားစရာကို အဘယ်သူ
ပေးသနည်း။

၃၉

၁ တောဆိတ်တို့သည် ထောဆိတ်မွေးရသောကာလကိုသိ
သလော၊ သမင်မရယ်မသားဖွားခြင်းငှါဝေဒနာခံ
၂ ရသောအမှိန်ကို မှတ် နိုင် သလော။- ကိုယ်ဝန်
ဆောင် ရသော နေ့လတို့ကို ရေ တွက်၍၊ ဖွားရ
၃ သောအမှိန်ကာလကိုသိသလော။- သူတို့သည်
ကြောကိုင်း၍ သားငယ်ကို မွေးဖွားသဖြင့် ဝေဒ
၄ နာငြိမ်းကြ၏။- သားငယ် တို့သည်ကျန်းမာ၍၊
လွင်ပြင်၌ ကြီး ပွားတတ်ကြ၏၊ အပြင်သို့သွား
၅ ၍ အမိထံသို့ပြန်မလာဘဲနေတတ်ကြ၏။- တော
မြည်းကိုအဆီး အတား မရှိစေခြင်းငှါ၊ အဘယ်သူ
လွှတ်သနည်း၊တောမြည်း၏ချည်နှောင်ခြင်းကိုအ
၆ ဘယ်သူဖြည်သနည်း။- တောကို သူ့အိမ်ဖြစ်စေ၍၊
၇ လွင်ပြင်ကို သူနေရာဖြစ်စေခြင်းငှါခန့်ထား ပြီ။- မြို့၌
ဖြစ် သော လူတို့၏ အသံ ဗလံ ကို သူသည် မထီမဲ့
မြင်ပြုတတ်၏။ နှင်သောသူ အော်ဟစ် သံ အော်
၈ သံ ကို မမှတ် တတ်။- တောင်မြို့၌ ကျက်စား၍၊
စိမ်းသော အပင်အမျိုးမျိုးကိုရှာတတ်၏။
၉ ကြံ့သည်သင်၏အမှုကိုဆောင်ရွက်၍၊ သင်၏
တင်းကုပ်၌ နေခြင်းငှါ အလိုရှိလိမ့်မည်လော။-
၁၀ ကြံ့ကိုထွန်ကြောင်းသို့လိုက်စေခြင်းငှါ၊ကြိုးနှင့်
ချည် နိုင် သလော၊ သို့ မဟုတ်၊ သင့် နောက်သို့
၁၁ လိုက်၍ ချိုင့်၌ ထယ်ထွန် လိမ့်မည်လော။- ကြံ့
သည်အားကြီးသောကြောင့်၊သူကိုယုံမည်လော၊
သင်လုပ်ရသောအလုပ်ကိုသူ့၌အပ်မည်လော။-
၁၂ သင်၏စပါးကိုဆောင်ခဲ့၍စပါးကျီ၌စုသိမ်းလိမ့်
မည်ဟုယုံသလော။
၁၃ ငှက်ကုလားအုတ်သည် အတောင်ခတ်လျက်
နေတတ်၏။ တောငန်းသည်အမွေးအတောင်နှင့်
၁၄ ပြည့်စုံ၏။- သို့သော်သည်း၊မြေ၌ဥ၍ အဥတို့ကို
၁၅ မြေမှုန့်၌ နွေးစေတတ်၏။- လူခြေသည် အဥတို့
ကိုနင်း မိမည်၊ သားရဲ ခွဲထိမ့် မည်ဟု မမိုးမိမ်။-
၁၆ သားငယ် တို့ကိုကိုယ်သားကဲ့သို့ မမှတ်၊ ကြမ်း
တမ်းစွာပြုတတ်၏။ မိုးမိမ်ခြင်းမရှိ။ သားဖွား
၁၇ ခြင်း ဝေ ဒနာ ကို အချည်း နှီးခံ တတ် ၏။- အ
ကြောင်း မူကား၊ ဘုရား သခင်သည် ပညာနဲ့စေ
ခြင်းငှါဝန်ဆင်တော်မူ၏။ ဥာဏ်ကို ပေးတော်
၁၈ မမူ။- သို့သော်သည်း၊ကိုယ်ကိုမြှောက်သောအခါ၊
မြင်းနှင့်မြင်းစီးသောသူကိုပြက်ရယ်တတ်၏။
၁၉ သင်သည်မြင်းကို ခွန်အား နှင့် ပြည့်စုံ စေသ
လော၊ သူ၏လည်ပင်း၌မိုဃ်းကြိုးသက္ခဏာကို
၂၀ သွင်း သ လော။- ကျိုင်းကောင် ကဲ့သို့ ခုန်
တတ်စေသလော၊ သူ၏ နှာခေါင်းမြည်သံသည်
၂၁ ကြောက်မက်ဖွယ်ဖြစ်၏။- လွင်ပြင်ကိုတူး၍၊
မိမိ ခွန်အား၌ ဝါကြွားလျက်၊ သူရဲများကိုတွေ့
၂၂ ဆုံ သော ငှါ သွား တတ် ၏။- ကြောက် စရာ အ
ကြောင်းကိုကဲ့ရဲ့၍၊ ကြောက်ထိတ်သောသဘော
နှင့် ကင်း လွတ် သဖြင့်၊ ထား ဘေးကို မရှောင်
၂၃ တတ်။- လူတစက်၌ မြှားတောင့်လှုပ်သံမြည်၍၊
လှံနှင့် ဒိုင်းလွှားသည် ပြောင်လက် လျက် ရှိ၏။-
၂၄ မာန ကြီး၍ ပြင်း ထန်သော စိတ် နှင့် မြေကို မြို

တတ်၏၊တံပိုးသံကိုကြားသောအခါငြိမ်ဝပ်စွာ
၂၆ မနေနိုင်။- တံပိုးမှုတ်သံအထက်သို့ရောက်၍ ဟေ့
ဟေ၊ဟေ့ဟေဟုဆိုတတ်၏၊ဗိုလ်ခြေအော်ဟစ်
၍ အသံဗလံပြုခြင်းနှင့်တကွ၊ စစ်တိုက်ပွဲကိုအ
ဝေးကအနံ့ခံတတ်၏။
၂၆ သင်ပေးသောဉာဏ်အားဖြင့် သိမ်းငှက်
သည် အတောင်ကိုဖြန့်၍၊ တောင်မျက်နှာသို့ပျံ
၂၇ သွားတတ်သလော။- သင်စီရင်သောကြောင့်ရွှေ
လင်းတသည် အထက်သို့တက်၍၊ မြင့်သောအ
၂၈ ရပ်၌ အသိုက်ကိုလုပ်တတ်သလော။- သူသည်
ကျောက်ပေါ်မှာနေ၍၊ တောင်ထိပ်နှင့် ကျောက်
၂၉ ငူပေါ်မှာနေရာကျတတ်၏။- ထိုအရပ်ကကြည့်
၍၊ ကိုက်စားစရာအကောင်ကိုအဝေးကပင်မြင်
၃၀ တတ်၏။- သူ၏သားငယ်တို့သည် အသွေးကို
သောက်တတ်၏၊ အသေကောင်ရှိရာအရပ်၌ထို
ငှက်ရှိသည်ဟုမိန့်တော်မူ၏။

၄၀

၁ တဖန်ထာဝရဘုရားက၊ အနန္တတန်ခိုးရှင်ကို
၂ ဆုံးမသောသူသည် ဆန့်ကျင်ဘက်ပြုဦးမည်
လော။ ဘုရားသခင်ကိုအပြစ်တင်သောသူသည်
ပြန်ပြောစေတော့ဟု၊ ယောဘအား မိန့်တော်မူ
၃ လျှင်-ယောဘကအကျွန်ုပ်သည်ဆိုးယုတ်ပါ၏။
၄ ကိုယ်တော်အား အဘယ်သို့ ပြန်လျှောက် ရပါ
မည်နည်း။ အကျွန်ုပ်သည် ကိုယ်နှုတ်ကို ကိုယ်
၅ လက်နှင့်ပိတ်ပါမည်။-တကြိမ်ပြောမိပါပြီ၊တ
ဖန်မပြောဝံ့ပါ၊နှစ်ကြိမ်တိုင်အောင်ပြောမိပါပြီ၊
သို့ရာတွင်၊ထပ်၍မပြောဝံ့ပါဟု၊ ထာဝရဘုရား
အားပြန်၍လျှောက်လေ၏။
၆ တဖန်ထာဝရဘုရားသည်မိုဃ်းသက်မုန်တိုင်း
၇ ထဲကယောဘအား မိန့်တော်မူသည်ကား၊- လူ
ယောက်ျားကဲ့သို့သင်၏ခါးကိုစည်းလော့၊ငါမေး
၈ မြန်းသောပြဿနာတို့ကိုဖြေလော့။- သင်သည်
ငါတရားစီရင်ချက်ကိုပယ်မည်လော၊သင်သည်
ကိုယ်တိုင်ဖြောင့်မတ်ထန်ရှိစေခြင်းငှါ၊ ငါ့ကိုအ
၉ ပြစ်ရှိသည်ဟုစီရင်မည်လော။-သင်သည်ဘုရား
သခင်၏လက်ရုံးကဲ့သို့သောလက်ရုံးရှိသလော၊
ဘုရားသခင်၏အသံကဲ့သို့သော အသံနှင့် မိုဃ်း
၁၀ ခြိမ်းနိုင်သလော။- ထူးဆန်းသောဘုန်းတန်ခိုး
အာနုဘော်ကို ဝတ်ဆောင်လော့၊ တင့်တယ်
သော ဂုဏ်အသရေ နှင့် တန်ဆာ ဆင်လော့။-
၁၁ သင်၏အမျက်အရှိန်ကိုသွန်လော့၊မာနထောင်
လွှားသောသူအပေါင်းတို့ကိုကြည့်ရှု၍ နှိမ့်ချ
၁၂ လော့။- မာနထောင်လွှားသောသူအပေါင်းတို့
ကိုကြည့်ရှု၍ ရှုတ်ချလော့၊ အဓမ္မလူတို့ကို နှိပ်
၁၃ နင်း၍- သူတို့ကိုမြေမှုန့်၌ တစုတည်း ဝှက်ထား
လော့၊သူတို့မျက်နှာများကိုမှောင်မိုက်၌ဖုံးအုပ်
၁၄ လော့။-သို့ပြုလျှင် သင်၏ လက်ျာလက် ရုံးသည်
သင့်ကိုကယ်တင်နိုင်သည်ဟုငါဝန်ခံမည်။
၁၅ သင်နှင့်အတူငါဖန်ဆင်းသောဗေဟမုတ်ခြင်း
ကိုကြည့်ရှုလော့၊ နွားကဲ့သို့ မြက်ကို စားတတ်
၁၆ ၏။- သူ၏တန်ခိုး သည် ခါး၌ရှိ၍၊ သူ၏ ခွန် အား
၁၇ သည် ဝမ်းကြော၌ရှိ၍ တည်လျက် ရှိ၏။- သူ အ
မြီးသည် အာရဇ်ပင်ကဲ့သို့ လှုပ်တတ်၏၊ပေါင်
၁၈ ကြောတို့သည်အထပ်ထပ်ရှိကြ၏။-အရိုးငယ်တို့
သည်ကြေးဝါချောင်း၊ အရိုးကြီးတို့သည်သံတုံး
၁၉ ကဲ့သို့ဖြစ်ကြ၏။- ဘုရားသခင် ဖန်ဆင်းသော
သတ္တဝါတို့တွင် ထူးဆန်းသော သတ္တဝါ ဖြစ်၏။
သူကိုဖန်ဆင်းသောဘုရားသာလျှင်သူ၏တံစဉ်
၂၀ ကိုပေးပြီ။- မြေတိရိစ္ဆာန် အပေါင်း တို့ကစားရာ
တောင်ရိုးသည်သူ၏ကျက်စားရာအရပ်ဖြစ်၏။-
၂၁ အရိပ် ကောင်း သော အပင်အောက်၊ ကျူပင်ခြုံ
ဖုတ်အောက်၊ ရေများ သော အရပ်၌ နေတတ်
၂၂ ၏။- ထိုအပင် တို့သည် အရိပ် နှင့် လွှမ်း မိုး၍
၂၃ ချောင်းနားမိုဃ်းမခပင်တို့သည်ပိုင်းကြ၏။-မြစ်
ရေထသော်ထည်း သူသည် မပြေးတတ်၊ သူ၏ခံ
တွင်းကို ယော်ဒန်မြစ်ရေ ဝှေ့တိုက် သော်ထည်း၊
၂၄ မတုန်မလှုပ်ဘဲနေတတ်၏။- ထိုမြင်းကိုထင်ရှား
စွာဖမ်းယူမည်လော၊ သူ၏နှာခေါင်းကိုသံချိတ်
နှင့်ဖောက်မည်လော။

၄၁

၁ လဝိသန်ကိုငါးမျှားနှင့်ဆွဲယူ၍၊သူ၏ လျှာကို
၂ ကြိုးနှင့်နှိပ်နင်းမည်လော၊သူကိုနှာရှုတ်တပ်၍၊
၃ ပါးရိုး၌သံကွင်းလျှိုမည်လော။- သူသည်သင့်ကို
မျှား စွာ တောင်းပန် လိမ့် မည်လော၊ ချော့ မော့
၄ သောစကားကိုပြောလိမ့်မည်လော။- သင်နှင့်ဝန်
ခံခြင်းပဋိညာဉ်ကိုပြုလိမ့်မည်လော၊သင်၏အမှု
ကိုအစဉ်ဆောင်ရွက်စေခြင်းငှါ၊ သူကိုခန့်ထား
၅ မည်လော။-ငှက်နှင့်ကစားသကဲ့သို့သူနှင့်ကစား
မည်လော၊သင်၏ မိန်းမကလေးတို့အဖို့သူကိုချည်
၆ နှောင်မည်လော။- သင်၏ အပေါင်း အဖော်တို့
သည်သူကို ပိုင်း၍၊စားသောက်ပွဲခံကြလိမ့်မည်
လော၊ကုန်သည်တို့တွင်ဝေကြလိမ့်မည်လော။-
၇ သူ၏အရေကိုမြှန်းနှင့်ရင်၊ သူ၏ခေါင်းကိုငါးထိုး
သောလှံနှင့်ရင်၊ အနှံ့အပြား ထိုးဖောက်နိုင်သ

၈ လော။– သူ့အပေါ်မှာ လက်တင်ရုံမျှသာ ပြုပါ။
သူကိုတိုက်မည့်အကြံကို နောက်တဖန်မစေခင်း
၉ မေ့ရ။– တိုက်သောသူသည် နိုင်မည်ဟု အချည်း
နှီးထင်၏။– မြင်ကာမျှနှင့်စိတ်မပျက်သလော။–
၁၀ သူကိုနှိုးဆော်ခြင်းငှါ အဘယ်သူမျှ မရဲရင့်။သို့
၁၁ ဖြစ်၍၊ ငါ့ရှေ့မှာ အဘယ်သူရပ်နိုင်သနည်း။–ငါ
သည်ကျေးဇူး ဆပ်ပြုရမည်အကြောင်း၊ အဘယ်
သူ သည် ငါ၌ ကျေး ဇူး ပြုဘူး သ နည်း။ မိုဃ်း
ကောင်း ကင် အောက်၌ ရှိရှိသမျှ တို့သည် ငါ၏
ဥစ္စာဖြစ်ကြ၏။
၁၂ လဝိသန် ၏ အင်္ဂါများ၊ ခွန်အား၊ တင့်တယ်
၁၃ သောတန်ဆာတို့ကိုငါသည်ဖုံးကွယ်၍မထား။– သူ့
၏အဝတ်ကို အဘယ်သူ ချွတ်နိုင်သနည်း။ နှစ်
ထပ်ရှိသောပါးမြီးကိုအဘယ်သူချည်းကပ်လိမ့်
၁၄ မည်နည်း။– သူ၏မျက်နှာတံခါးကို အဘယ်သူ
ဖွင့်လိမ့် မည် နည်း။ သူ ၏ သွား တန်း တို့ သည်
၁၅ ကြောက်မက်ဖွယ်ဖြစ်ကြ၏။– လုံချုံစွာတံဆိပ်
ခတ်သကဲ့သို့ တချပ် နှင့် တချပ်ပူး ကပ် သောအ
၁၆ ကြေးချပ်နှင့်ဝါကြွားတတ်၏။–လေမျှမဝင်နိုင်
အောင်၊ တချပ်နှင့်တချပ်ပူးကပ်လျက်ရှိကြ၏။–
၁၇ တချပ် နှင့် တချပ် မခွာနိုင်အောင်၊ တခဲနက်ရှက်
၁၈ တင် လျက်ရှိကြ ၏။–သူချေဆတ်သော အခါ အ
လင်း ထောက် တတ် ၏။ သူ မျက် စိ သည် နံနက်
၁၉ မျက်တောင် ခတ်သကဲ့သို့ ဖြစ်၏။–ပါးစပ်ထဲကမီး
၂၀ ရှူးထွက်၍၊ မီးပွားတို့ထည်းလွင့်ကြ၏။–ကျက်
ကျက်ဆူသော အိုးကင်းထဲက အခိုးအငွေ့ထွက်
သကဲ့သို့၊ နှာခေါင်း ထဲက အခိုး အ ငွေ့ထွက်
၂၁ တတ်၏။–အသက်ရှူသောအခါ၊မီးခဲတောက်၍
၂၂ ပါးစပ်ထဲကမီးလျှံထွက်တတ်၏။–လည်ပင်း၌တန်
ခိုးနေတတ်၏။သူ့ရှေ့မှာကြောက်ထန့်ခြင်းသည်
၂၃ ကခုန်တတ်၏။– အသားအကြောတို့သည် တခဲ
နက်ဖြစ်၍၊ မရွေ့နိုင်အောင် မိုင်မာလျက် ရှိကြ
၂၄ ၏။– နှစ်လုံးသည်ကျောက်ကဲ့သို့မာ၏။ အောက်
၂၅ ကြိတ်ဆုံကျောက်ကဲ့သို့မာ၏။– သူထသောအခါ
ခွန်အား ကြီးသော သူတို့သည် ကြောက်ထန့်ကြ
၏။ကြောက်ထန့်အားကြီး သော့ကြောင့်အ ရူးကဲ့
၂၆ သို့ဖြစ်ကြ၏။–သူကိုတိုက်လျှင်ထားမခိုင်တတ်။
၂၇ လှံ၊မြှား၊သံချပ်မခိုင်တတ်။–သံကိုကောက်ရိုးကဲ့
သို့၎င်း၊ ကြေးဝါကိုသစ်ဆွေးကဲ့သို့၎င်း မှတ်တတ်
၂၈ ၏။– လေးနှင့်ပြစ်၍သူကိုမပြေးစေနိုင်။ လောက်
လွှဲနှင့် ပြစ်သောကျောက်ခဲတို့သည်သူ၌ အမှိုက်
၂၉ ကဲ့သို့ ဖြစ်ကြ၏။–ရုတ်ကြီးကို ဖွဲ့ကဲ့သို့မှတ်၍၊ လှံ
၃၀ နှင့်ရွယ်သောအခါရယ်တတ်၏။–သူ့အောက်မှာ
ထက်သောအိုးခြောင်းခြမ်းများ ရှိ၏။–ရွှံ့ပေါ်မှာ
၃၁ ထွန်သွားများကို ဖြန့်တတ်၏။– အိုးကင်း ဆူသ
ကဲ့သို့ပင် ထယ်ကို ဆူစေတတ်၏။ သမုဒ္ဒရာကိုဆီ
၃၂ ပေါင်းချက်ကဲ့သို့ ဖြစ်စေတတ်၏။–သူထွန်သွား
သောလမ်းသည်ထွန်းတောက်သဖြင့်၊ ပင်လယ်
၃၃ သည်ဆံပင် ဖြူရောင် ဆောင်တတ်၏။– မြေ ပေါ်
မှာသူ နှင့် မိုင်း နိုင်သော တိရိစ္ဆာန် မရှိ။ ပကတိ
အားဖြင့် ကြောက်တတ်သောသဘောနှင့် ကင်း
၃၄ လွတ်၏။– ကြီးမြင့်သောအရာရှိသမျှတို့ကို မထီ
မဲ့မြင် ပြုတတ်၏။ မာနထောင် လွှား သောသူ အ
ပေါင်း တို့အပေါ်၌ မင်း ဖြစ်သည် ဟု မိန့်တော်
မူ၏။

## ၄၂

၁ ယောဘသည်ထာဝရဘုရားအားပြန်လျှောက်
၂ သည် ကား၊– ကိုယ်တော်သည် အလုံး စုံ တို့ကို
တတ် နိုင် တော်မူကြောင်းကို၎င်း၊ အကြံအစည်
တော်ကိုအဘယ်သူမျှ မဆီးတား နိုင် ကြောင်း
၃ ကို၎င်းအကျွန်ုပ်သိပါ၏။– ပညာမရှိဘဲအကြံအ
စည်တော်ကို ဖုံးကွယ်စေသော သူကား၊ အဘယ်သူ
နည်း။ သို့ရာတွင်၊ အကျွန်ုပ်သည် နား မလည်
သောအရာတို့ကို၎င်း၊ ကိုယ်တိုင်မသိ၊ အံ့ဩ
၍မကုန်နိုင်သော အမှုတို့ကို၎င်း ပြောမိပါပြီ။–
၄ နားထောင်တော်မူပါ။အကျွန်ုပ်လျှောက်ပါမည်။
အကျွန်ုပ် မေး လျှောက်သော အရာတို့ကို သွန်
၅ သင် တော်မူပါ။– သိတင်း တော် ကို အကျွန်ုပ်
သည်နားနှင့်ကြားဘူးပါပြီ။ယခုမူကား၊ကိုယ်
၆ တော်ကို မျက်စိနှင့် မြင်ရပါ၏။– ထိုကြောင့်၊ အ
ကျွန်ုပ်သည်ကိုယ်ကို ရွံရှာပါ၏။ မြေမှုန့် နှင့်မီးဖို
ပြာ၌ထိုင်၍၊နောင်တရပါ၏ဟုလျှောက်ထေ၏။
၇ ထိုသို့ ထာဝရဘုရားသည် ယောဘအား မိန့်
တော်မူပြီးမှ၊ တေမန်အမျိုးသား ဧလိဖတ်အား
လည်းသင်နှင့်သင်၏အဆွေခင်ပွန်းနှစ်ယောက်
ကိုငါအမျက်ထွက်၏။ အကြောင်းမူကား၊ငါ့ကျွန်
ယောဘသည်ငါ့အကြောင်းအရာတို့ကိုဟုတ်မှန်
၈ စွာပြောသကဲ့သို့သင်တို့သည်မပြော။–သို့ဖြစ်၍
နွားထီး ခုနှစ်ကောင်နှင့် သိုးထီးခုနှစ်ကောင်တို့
ကိုယူပြီးလျှင်၊ငါ့ကျွန်ယောဘထံသို့သွား၍၊မိမိ
တို့အဖို့မီးရှို့ရာယဇ်ကိုပူဇော်ကြလော့။ငါ့ကျွန်
ယောဘသည်သင်တို့အဖို့ ဆုတောင်းရမည်။သူ
၏မျက်နှာကိုငါထောက်မည်။သို့မဟုတ်၊ငါ့ကျွန်
ယောဘ သည် ငါ့ အကြောင်း အရာတို့ကို ဟုတ်

ဖန်ဆင်းသည်အတိုင်း၊ ထင်တို့သည် မပြောသော
အပြစ်နှင့်အလျောက်ငါစီရင်မည်ဟု မိန့်တော်မူ
၉ ၏။– ထိုသို့ထာဝရဘုရား မှာထားတော်မူသည်
အတိုင်း၊ တေမန် အမျိုးသား ဧလိဖတ်၊ ရှုအာ
အမျိုးသားဗိလဒဒ်၊ နေမတ်အမျိုးသားဇောဖာ
တို့သည် သွား၍ပြုကြ၏။ ထာဝရဘုရား သည်
လည်း၊ ယောဘ ၏ မျက်နှာ ကို ထောက် တော်
မူ၏။
၁၀ ယောဘ သည် အဆွေ ခင်ပွန်း တို့ အဖို့ ဆု
တောင်း ပြီးမှ၊ သူ ခံရ သော ဒုက္ခ အကြောင်း ကို
ထာဝရဘုရားသည် ပယ်ရှင်း၍၊ အရင်ထက်နှစ်
၁၁ ဆသောဥစ္စာကိုပေးတော်မူ၏။– ထိုအခါသူ၏ညီ
အစ်ကိုနှမများ၊ အရင် သိကျွမ်း သော သူများ
အပေါင်း တို့သည် သူထံသို့လာ၍၊ သူ၏ အိမ်၌
သူနှင့် အတူ စား သော က ကြ ၏။ သူအပေါ်မှာ
ထာဝရဘုရားရောက်စေတော်မူသော ဒုက္ခဆင်း
ရဲရှိသမျှကို အောင်းမေ့၍၊ သူနှင့်အတူ ညည်း
တွားခြင်းနှင့် နှစ်သိမ့်စေခြင်းကို ပြုကြ၏။ ထိုသူ

အပေါင်းတို့အသည်လည်း၊ ငွေတပြားစီနှင့်ရွှေနားဆ
တောင်းတဖတ်စီပေးကြ၏။
၁၂ ထိုသို့ထာဝရဘုရားသည် ယောဘ၏ နောက်ဖြစ်
ဟန် ကို ကောင်း ကြီး ပေး တော်မူ သည် ထက်၊
ရှေးကဖြစ်ဟန်ကိုသာ၍ကောင်းကြီးပေးတော်မူ
သဖြင့်၊ သူသည်သိုးတသောင်းလေးထောင်၊ ကု
လားအုတ် ခြောက်ထောင်၊ နွားရှဉ်းတထောင်၊
၁၃ မြည်းမတထောင်ကိုရတတ်၏။– သားခုနစ်ယောက်
၁၄ နှင့်သမီးသုံးယောက်ကိုလည်းရပြန်၏။– သမီးကြီး
ကား၊ ယေမိမ၊ သမီးလတ်ကား ကေဇိ၊ သမီးငယ်ကား
၁၅ ကေရင်ဟပ္ပုတ်အမည်ရှိသတည်း။– တပြည်လုံး၌
ယောဘ၏သမီးကဲ့သို့ လှသောမိန်းမတစုံတယောက်
မျှမရှိ၊ သူတို့၏အဖသည်သူတို့မောင်များ နှင့်အ
ညီအမျှ၊ သူတို့အား အမွေဥစ္စာကိုဝေပေးလေ၏။
၁၆ ထိုနောက်၊ ယောဘသည် အနှစ် တရာလေး
ဆယ်အသက်ရှင်၍မိမိသား၊မြေး၊မြစ်တို့ကိုပင်
၁၇ မြင်ရပြီးမှ–အသက်ကြီးရင့်၍နေ့ရက်ကာလနှင့်
ပြည့်စုံသော်၊အနိစ္စရောက်လေ၏။

ယောဘဝတ္ထုပြီး၏။

# ဆာလံကျမ်း။

## BOOK OF PSALMS.

၁

၁ မတရားသော သူတို့၏ တိုက်တွန်း ခြင်းသို့မ
၂ လိုက်၊ လူဆိုးတို့၏ လမ်း၌တွင် မရပ်မနေ၊ မထီမဲ့
မြင် ပြုသော သူတို့ ၏ အစည်း အဝေး၌ မထိုင်၊
ထာဝရ ဘုရား ၏ တရား တော် ၌ မွေ့လျော် ၍၊
တရားတော်ကိုနေ့ညဉ့်မပြတ် ဆင်ခြင်အောင်း
၃ မှောသော သူသည် မင်္ဂလာရှိ၏။– အကြောင်း မူ
ကား၊ ထိုသူသည် မြစ်နားမှာ စိုက်လျက် မိမိအ
ချိန်တန်မှ အသီးကို သီး၍၊ အရွက်မညှိုး နွမ်း
တတ် သော အ ပင် နှင့် တူ ၏။ ပြုလေ သမျှ တို့ ၌
အောင်လိမ့်သတည်း။
၄ မတရားသောသူတို့မူကား၊ ထိုကဲ့သို့မဟုတ်။
၅ လေ တိုက်၍ လွင့် သော ဖွဲ နှင့် တူ ကြ ၏။– ထို

ကြောင့် တရား ဆုံးဖြတ် တော် မူရာ ကာလ ၌၊ မ
တရားသောသူတို့သည်မတည်မနေရကြ၊ဖြောင့်
မတ် သောသူတို့၏အပေါင်းအသင်း၌ လူဆိုး
၆ တို့သည်မဝင်ရကြ။–အကြောင်းမူကား၊ ဖြောင့်
မတ် သော သူ တို့ ၏ လမ်း ကိုထာဝရ ဘုရား သိ
ကျွမ်း တော်မူ ၏။ မတရား သော သူတို့၏ လမ်း
သည်ဆုံးရှုံးခြင်းသို့ရောက်ရလိမ့်သတည်း။

၂

၁ လူမျိုးတို့သည်အဘယ်ကြောင့် ရုန်းရင်းခတ်
ပြုကြသနည်း၊လူစုတို့သည်အဘယ် ကြောင့်အ
၂ ချည်းနှီးကြံစည်ကြသနည်း။–လောကီရှင်ဘုရင်
တို့သည်ထကြ၍၊ မှူးမတ်အရာရှိတို့လည်း၊ထာ
ဝရဘုရားနှင့် ခရစ်တော်ကိုရန်ဘက်ပြုလျက်–

၃ သူတို့ချည်နှောင်ခြင်းကို ဖြတ်ကြကုန်အံ့၊ ချည်
နှောင်သောကြိုးတို့ကိုပယ်ကြကုန်အံ့ဟုသင်းဖွဲ့
ကြ၏။

၄ ကောင်းကင်ဘုံ၌ထိုင်တော်မူသောသူသည်ပြုံး
ရယ်၍၊ထာဝရဘုရားသည် သူတို့ကိုကဲ့ရဲ့တော်
၅ မူ၏။-ထိုအခါအမျက်တော်ထွက်၍၊သူတို့ကိုမိန့်
တော်မူမည်။ပြင်းစွာသောအမျက်တော်နှင့်သူတို့
၆ ကို ပူပန်စေတော်မူမည်။- ငါ၏ရှင်ဘုရင်ကိုသန့်
ရှင်းသောဇိအုန် တောင် တော် ပေါ်မှာ၊ ငါကိုယ်
ထိုင်အဘိသိတ်ပေးပြီဟုမိန့်တော်မူမည်။

၇ ဗျာဒိတ်တော် အချက် ကိုငါပြန် ကြားပေအံ့။
ထာဝရဘုရားက၊သင်သည်ငါ့သားဖြစ်၏။ယနေ့
၈ ပင်သင့် ကို ငါ ဖြစ် ဖွားစေ ပြီ။- ငါ့ကို တောင်း
လော့။ လူ အမျိုး မျိုး တို့ကို သင် ၏ အမွေ ဥစ္စာ
တို့ ငါ ပေး မည်။ မြေ ကြီး စွန်း တိုင် အောင် ပိုင်
၉ ထိုက်သော အခွင့်ကိုလည်း ငါပေးမည်။- သင်
သည် သူတို့ကိုသံလှံတံနှင့်ဖျက်ဆီး၍၊ မြေအိုးကို
ခွဲဖျက် သကဲ့ သို့ ခွဲဖျက် လိမ့်မည် ဟု ငါ့အား မိန့်
တော်မူပြီ။

၁၀ ထို့ကြောင့်ရှင်ဘုရင်တို့၊ပညာသတိရှိကြလော့။
လောကီ မင်း တို့၊ ဆုံးမ ခြင်း ကို ခံ ကြ လော့။-
၁၁ ကြောက် ရွံ့သော စိတ်နှင့် ထာဝရဘုရား၏ အမှု
တော်ကို ထမ်း ရွက်၍၊ တုန်လှုပ် ခြင်းနှင့် ဝမ်း
၁၂ မြောက်ကြလော့။-သားတော်ကိုနမ်းကြလော့။
ထိုသို့မလုပ်လျှင် အမျက်တော် ထွက်၍၊ သင်တို့
သည် ထမ်း၌ ပျက်စီး ခြင်း သို့ ရောက် ကြ လိမ့်
မည်။ အမျက်တော် သည် ချက်ချင်း ထွက် လိမ့်
မည်။သားတော်ကိုကိုးစားသောသူအပေါင်းတို့
သည်မင်္ဂလာရှိကြ၏။

၃

ဒါဝိဒ်သည် သား တော် အဗရှလုံ ရှေ့မှ ပြေး သော
အခါစပ်ဆိုသောဆာလံ။

၁ အိုထာဝရဘုရား၊ အကျွန်ုပ်၏ရန်သူတို့သည်
အလွန်တိုးပွား၍၊အကျွန်ုပ်တဘက်၌ထသောသူ
၂ တို့သည်များကြပါ၏။-သူသည်ဘုရားသခင်ကို
အမှီပြု၍ချမ်းသာမရဟု၊အကျွန်ုပ်ကိုရည်စောင်း
၍ ပြော သော သူ အများ ရှိ ကြ ပါ၏။- သို့သော်
လည်း၊ အိုထာဝရ ဘုရား၊ ကိုယ်တော်သည် အ
ကျွန်ုပ်၏အကွယ်အကာဖြစ်တော်မူ၏၊ အကျွန်ုပ်
၏ဘုန်းအသရေဖြစ်တော်မူ၏။အကျွန်ုပ်၏ဦးခေါင်း
ကိုချီကြွသောသူလည်းဖြစ်တော်မူ၏။
၄ ငါသည် ထာဝရဘုရား...သို့ အသံကို လွှင့်၍
အော် ဟစ် သော အခါ၊ သန့် ရှင်း သော တောင်
၅ တော် ပေါ်မှာ နား ထောင် တော် မူ ၏။- ထာဝရ
ဘုရား သည် ငါ့ကို မစ တော် မူ သော ကြောင့်၊ ငါ
သည်အိပ်၍ပျော်ခြင်းအခွင့်နှင့်နိုးခြင်းအခွင့်ရှိ
၆ ၏။-ငါ့ကိုရန်တက်ပြု၍ဝန်းရံသောသူအထောင်
အသောင်းကိုငါမကြောက်ဘဲနေမည်။

၇ အိုထာဝရဘုရား၊ ထတော်မူပါ။ အကျွန်ုပ်၏
ဘုရား သခင်၊ အကျွန်ုပ်ကို ကယ် မ တော် မူ ပါ။
ကိုယ်တော်သည်အကျွန်ုပ်၏ရန်သူတို့၏ပါးရိုးကို
ရိုက်၍၊ မတရားသောသူတို့၏သွားကိုချိုးတော်
၈ မူ ၏။- ထာဝရဘုရား၏ ကျေးဇူးတော် ကြောင့်
ချမ်းသာ ရပါ၏။ ပေးတော်မူသော ကောင်း ကြီး
မင်္ဂလာသည် ကိုယ်တော်၏လူစုအပေါ်သို့သက်
ရောက်ပါစေသော။

၄

၁ အကျွန်ုပ် ကို ဖြောင့် မတ် စေ တော် မူ သော
ဘုရား၊အကျွန်ုပ်ခေါ်သောအခါနားထောင်တော်
မူပါ။ အကျွန်ုပ် သည် ဆင်းရဲ စည် တွင်၊ ကိုယ်
တော်သည်ချမ်းသာပေးတော်မူပါပြီ။ယခုထဦး
သနား၍အကျွန်ုပ်၏ ပဌနာစကားကိုနားထောင်
တော်မူပါ။

၂ အချင်းလူသားတို့၊အဘယ်မျှကာလ ပတ်လုံး
ငါ၏ဘုန်းကို ရှုတ်ချ ကြမည် နည်း။ အဘယ်မျှ
ကာလပတ်လုံး အနတ္တကိုနှစ်သက်၍၊ မုသာကို
၃ လိုက်ရှာ ကြမည်နည်း။- ထာဝရဘုရား သည်
ဖြောင့်သန့် ရှင်းသူကို ရွေးထားတော်မူ သည်ကိုသိ
မှတ်ကြ လော့။ ငါခေါ်၍ လျှောက် သော အခါ၊
ထာဝရ ဘုရား သည် နား ထောင် တော် မူ လိမ့်
၄ မည်။-ကြောက်ရွံ့တုန်လှုပ်၍ဒုစရိုက်အပြစ်ကို
ရှောင်ကြလော့။ အိပ်ရာ ပေါ်မှာ ကိုယ်စိတ် နှစ်
လုံးနှင့်ဆွေးနွေးစည်းစား၍ တိတ်ဆိတ်ခြင်းရှိ
၅ ကြလော့။-တရားသဖြင့်ယဇ်ပူဇော်၍ထာဝရ
ဘုရားကိုကိုးစားကြလော့။

၆ ကောင်းစွန်သောအရာကိုငါတို့အားအဘယ်
သူပြမည်နည်းဟုမေးတတ်သောသူအများရှိပါ
သည်ဖြစ်၍၊အိုထာဝရဘုရား၊မျက်နှာတော်အ
လင်းကို အကျွန်ုပ် တို့ အပေါ်မှာ ပေါ် ထွန်းစေ
၇ တော်မူပါ။- သူ တို့၌ ဆန် စပါး၊ စပျစ် ရည် ပေါ
များ၍၊ သူတို့ဝမ်းမြောက်ခြင်းရှိသည်ထက်၊အ
၈ ကျွန်ုပ်ကိုသာ၍ဝမ်းမြောက်စေတော်မူ၏။-ငြိမ်
ဝပ်စွာအိပ်၍ပျော်ပါမည်။ အကြောင်းမူကား၊
အကျွန်ုပ် သည် လုံ ခြုံစွာ နေ ရ သော အ ခွင့် ကို

ကိုယ်တော်အရှင်ထာဝရဘုရားသာလျှင်ဘာဠင့်
ပေးတော်မူ၏။

၅

၁ အိုထာဝရဘုရား၊ အကျွန်ုပ်၏စကားကို နား
ထောင်တော်မူ၍၊ အကျွန်ုပ် မြည်တမ်း ခြင်းကို
၂ ထင်မြင်တော်မူပါ။- အကျွန်ုပ်၏ ရှင်ဘုရင်၊ အ
ကျွန်ုပ်၏ ဘုရား၊ အကျွန်ုပ် သည် ကိုယ်တော်ကို
ဆုတောင်းသည်ဖြစ်၍၊ အကျွန်ုပ်အော်ဟစ်သော
၃ အသံ ကို နား ထောင် တော် မူ ပါ။- အို ထာဝရ
ဘုရား၊ နံနက် အခါ အကျွန်ုပ်စကားသံကိုကြား
တော် မူရပါ၏။ နံနက် အခါ ကိုယ်တော်ကို မျက်
၄ မှောက် ပြု၍ မျှော် ထင့် ပါ မည်။- ကိုယ် တော်
သည်မတရားသောအမှုကိုနှစ်သက်သောဘုရား
၅ မဟုတ်။ ဆိုးသောသူကို လက် ခံတော်မမူ။-မိုက်
သော သူ သည် အထံတော်သို့ မဝင် ရ။ မတရား
သဖြင့် ပြုသော သူ အ ပေါင်း တို့ ကို မုန်းတော်မူ
၆ ၏။-ရသာ စကား ပြော သော သူတို့ကို ဖျက် ဆီး
တော်မူ၏။ လူ အသက်ကို သတ် တတ်သော သူ
နှင့်ဗျည်းစားတတ်သော သူတို့ကို ထာဝရဘုရား
၇ စက်ဆုပ် ရွံရှာတော်မူ၏။-အကျွန်ုပ်မူကား၊ များ
စွာသော ကျေးဇူးတော်ကို ခံစားရသဖြင့်၊ အိမ်
တော်သို့ ရောက်၍၊ ကိုယ်တော်ကို ကြောက်ရွံ
သောစိတ်နှင့် သန့်ရှင်းသော ဗိမာန်တော်တွင်
ကိုးကွယ်ပါလိမ့်မည်။
၈ အို ထာဝရ ဘုရား၊ အကျွန်ုပ်၏ ရန် သူ တို့
ကြောင့် အကျွန်ုပ် ကို တရား တော် လမ်း ထဲ သို့
မှီ ဆောင်တော်မူပါ။ ကိုယ်တော်၏ လမ်းကို အ
၉ ကျွန်ုပ်ရှေ့မှာဖြောင့်စေတော်မူပါ။-သူတို့၏နှုတ်
တွင် သစ္စာ မရှိပါ။ သူတို့ နှစ်လုံး သည် အလွန်
ဆိုးပါ၏။ သူတို့၏ လည်ချောင်းသည် ဖွင့် ထား
သော သင်းချိုင်းတွင်းဖြစ်ပါ၏။ သူတို့သည်လျှာ
၁၀ နှင့်ချော့မော့တတ်ကြ၏။-အိုဘုရားသခင်၊ သူတို့
အပေါ်မှာအပြစ်ရောက်စေတော်မူပါ။ မိမိတို့အ
ကြံ အစည် အားဖြင့် လဲကြ ပါ စေသော။ ကိုယ်
တော်ကို ပုန် ကန်သော သူဖြစ်၍၊ ပြစ်မှားသော
အပြစ် များ သော ကြောင့်၊ သူ တို့ ကို နှင်ထုတ်
တော်မူပါ။
၁၁ ကိုယ် တော် ကို ကိုး စား သော သူတို့ မူကား၊
ဝမ်း မြောက် ကြ ပါ စေ သော။ စောင့် ရှောက်
တော် မူ ခြင်း ကို ခံရ ၍ ဝမ်း မြောက် သည် နှင့်
ကျူး ကြွေး ကြ ပါ စေ သော။ နာမ တော်ကို ချစ်
သောသူတို့သည် ကိုယ်တော်ကြောင့်၊ ဝမ်းသာ
၁၂ ရွှင်လန်းခြင်းရှိကြပါစေသော။- အို ထာဝရ
ဘုရား၊ ကိုယ်တော်သည် ဖြောင့်မတ်သောသူကို
ကောင်း ကြီး ပေး ၍၊ ကျေး ဇူး တော် အား ဖြင့်
ကွယ်ကာစောင့်မတော်မူလိမ့်သတည်း။

၆

၁ အို ထာဝရဘုရား၊ အ မျက် တော် ထွက်၍အ
ကျွန်ုပ်ကို အပြစ်တင်တော်မမူပါနှင့်။ ပြင်းစွာအ
၂ မျက်ထွက်၍ ဆုံးမတော် မမူပါနှင့်။- အိုထာဝရ
ဘုရား၊ အကျွန်ုပ်သည် ခွန်အား နည်းလှပါ၏။
ကယ်မ သနားတော်မူပါ။ အိုထာဝရဘုရား၊ အ
ကျွန်ုပ် အရိုးတို့သည် တုန်လှုပ်ကြပါ၏။ ကျန်း
၃ မာ ပကတိ ရှိစေ တော် မူပါ။- အကျွန်ုပ် စိတ်ဝိ
ညာဉ်သည် အလွန် တုန်လှုပ်ပါ၏။ အိုထာဝရ
ဘုရား၊ ကိုယ်တော်သည် အဘယ်မျှကာလ ပတ်
၄ လုံးနေတော်မူမည်နည်း။- အိုထာဝရဘုရား၊ တ
ဖန်ကြွလာ၍၊ အကျွန်ုပ်စိတ်ဝိညာဉ်ကိုကယ်လွှ
တော်မူပါ။ ကရုဏာ တော် နှင့်အညီ အကျွန်ုပ်
၅ ကို ကယ်တင် တော် မူပါ။- အကြောင်း မူကား၊
သေလျက်နေစဉ်တွင်ကိုယ်တော်ကိုအောက်မေ့
ခြင်းမရှိပါ။မရဏာနိုင်ငံတွင် ကျေးဇူးတော်ကို
၆ အ ဘယ် သူ ချီး မွမ်း ပါ မည် နည်း။- အကျွန်ုပ်
သည်ညည်းတွား၍ပင်ပန်းလှပါ၏။ အကျွန်ုပ်ရ
တင်ကိုကိုယ် မျက် ရည်၌ တညဉ့် လုံး မျော၍၊
၇ အိပ်ရာကိုလည်း စွန်းစေပါ၏။- ဝမ်းနည်းခြင်း
အားဖြင့်မျက်စိ ပျက်၍၊ ရန်သူ များကြောင့် ဖြာ
မှုန်လျက်ရှိပါ၏။
၈ မတရားသဖြင့်ပြုသောသူအပေါင်းတို့၊ ငါ့ထံမှ
ဖယ် သွားကြ။ ငါ ငိုကြွေးသံ ကို ထာဝရ ဘုရား
၉ ကြားတော်မူ၏။- ငါတောင်းပန်ခြင်းကိုထာဝရ
ဘုရားကြားတော်မူ၏။ ငါပြုသော ပဋ္ဌနာစကား
ကို ထာဝရ ဘုရားနား ထူ တော်မူ ၏။ ငါ့ရန်သူအ
ပေါင်းတို့သည်ရှက်ကြောက်၍၊ဆိုး ရွားခြင်းရှိကြ
လိမ့်မည်။ ချက်ချင်း ပြန် သွား၍၊ရှက်ကြောက်
ခြင်းသို့ရောက်ကြလိမ့်မည်။

၇

ဗင်္ယာမိန် အမျိုး သား ကုရှ ၏ စကား
ကြောင့်၊ထာဝရဘုရားရှေ့တော်၌အသံ
ညှိ၍ဆိုသောဆာလံ။

၁ အကျွန်ုပ်၏ ဘုရား သခင် ထာဝရ ဘုရား၊
ကိုယ်တော်ကို အကျွန်ုပ်ခိုလှုံပါ၏။ အကျွန်ုပ်ကို
ညှဉ်းဆဲ သော သူ အပေါင်း တို့ ၏ လက်မှ အ
၂ ကျွန်ုပ်ကို နှုတ်ယူ၍ ကယ်တင်တော်မူပါ။- သို့မ



 

ထုတ်၊ နှုတ်ယူသောသူမရှိစေသည်၊ ရန်သူသည်ချုပ်
သော့ကဲ့သို့အကျွန်ုပ်၏စိတ်ဝိညာဉ်ကိုလုယူကိုက်
၃ ဖြတ်ပါလိမ့်မည်။- အကျွန်ုပ်၏ဘုရားသခင်
ထာဝရဘုရား၊ အကျွန်ုပ်သည်ထိုသို့ပြုသော်၎င်း၊
၄ အကျွန်ုပ်လက်မှာအဓမ္မအမှုရှိသော်၎င်း- အ
ကျွန်ုပ်နှင့်သင့်တင့်သောသူကိုအကျွန်ုပ်ဖြစ်မှား
၍၊ အကြောင်းမရှိဘဲလျက်ရန်ပြုသောသူကိုအ
ကျွန်ုပ်ညှဉ်းဆဲသော်၎င်း၊ ထိုသို့သောအဖြစ်တ
၅ စုံတခုရှိလျှင်- ရန်သူသည်အကျွန်ုပ်၏စိတ်ဝိ
ညာဉ်ကိုလိုက်၍မှီပါစေ။ အကျွန်ုပ်အသက်ကို
မြေပေါ်မှာနင်း၍၊ အကျွန်ုပ်အသရေကိုမြေမှုန့်၌
နှိမ့်ချပါစေ။
၆ အိုထာဝရဘုရား၊ အမျက်တော်ထွက်၍ထ
တော်မူပါ။ အကျွန်ုပ်၏ရန်သူတို့ပြင်းထန်ခြင်းကို
ဆီးတား၍အားထုတ်တော်မူပါ။ အကျွန်ုပ်အဖို့
နိုးတော်မူပါ။ တရားစီရင်ဆုံးဖြတ်တော်မူပါ။-
၇ လူမျိုးတို့သည်စည်းဝေး၍၊ ကိုယ်တော်ကိုဝန်း
ရံကြလျက်၊ သူတို့အဖို့မြင့်ရာအရပ်သို့ပြန်ကြွ
၈ တော်မူပါ။- ထာဝရဘုရားသည်လူမျိုးတို့ကို
တရားစီရင်တော်မူ၏။ အိုထာဝရဘုရား၊ အ
ကျွန်ုပ်ဖြောင့်မတ်ခြင်းကို၎င်း၊ စုံလင်ခြင်းကို၎င်း
ထောက်၍၊ အကျွန်ုပ်အမှုကိုစီရင်ဆုံးဖြတ်တော်
၉ မူပါ။- မတရားသောသူတို့၏အဓမ္မအမှုကိုဆုံး
ရှုံးစေ၍၊ တရားသောသူတို့ကိုမြဲမြဲစေတော်မူ
ပါ။ တရားသဖြင့်ပြုတော်မူသောဘုရား၊ ကိုယ်
တော်သည်နှလုံးနှင့်ကျောက်ကပ်ကိုစစ်တော်
မူတတ်ပါ၏။
၁၀ သဘောဖြောင့်သောသူတို့ကိုကယ်တင်တတ်
သောဘုရားသခင်သည်ငါ၏အကွယ်အကာဖြစ်
၁၁ တော်မူ၏။- ဘုရားသခင်သည်တရားသဖြင့်စီ
ရင်သောဘုရားဖြစ်၍၊ မတရားသောသူကိုအ
၁၂ စဉ်အမျက်ထွက်တော်မူ၏။- ထိုသူသည်မ
ပြောင်းလဲလျှင်၊ ထားတော်ကိုသွေးတော်မူ၏။
၁၃ လေးတော်ကိုတင်၍ရွယ်တော်မူ၏။- သေစေ
သောလက်နက်ကိုလည်းသူ့အဖို့ပြင်ဆင်၍၊ မြှား
၁၄ တော်တို့ကိုလောင်စေတော်မူ၏။- ထိုသူသည်
ဒုစရိုက်ဖွားသောဝေဒနာကိုခံရ၏။ မကောင်း
သောအကြံအစည်ကိုပဋိသန္ဓေယူ၍၊ မိတ်ဖျက်
၁၅ ခြင်းကိုဖွားမြင်တတ်၏-တွင်းကိုလည်းနက်စွာ
တူးသဖြင့်၊ မိမိတူးသောတွင်းထဲသို့မိမိကျတတ်
၁၆ ၏။- မိမိမကောင်းသောအကြံအစည်သည်မိမိ
ခေါင်းပေါ်မှာပြန်ရောက်၍၊ မိမိကြမ်းတမ်း
သောအမှုသည်မိမိခေါင်းထိပ်ပေါ်မှာထက်
၁၇ ရောက်တတ်၏။- ငါမူကား၊ ထာဝရဘုရား၏
တရားသောအမှုတော်ကိုချီးမွမ်း၍၊ အမြင့်ဆုံး
သောထာဝရဘုရား၏နာမတော်ကိုထောမနာ
သီခြင်းဆိုပါမည်။

၈

၁ အိုအကျွန်ုပ်တို့၏ဘုရားရှင်ထာဝရဘုရား၊
နာမတော်သည်မြေကြီးတပြင်လုံး၌အလွန်ကြီး
မြတ်တော်မူ၏။ ဘုန်းအာနုဘော်တော်သည်
မိုဃ်းကောင်းကင်ပေါ်မှာတည်လျက်ရှိပါ၏။-
၂ ကိုယ်တော်၏ရန်သူတို့ကိုရည်ဆောင်၍ရန်သူ
ကို၎င်း၊ အပြစ်ဒဏ်ပေးသောသူကို၎င်း၊ တိတ်ဆိတ်
စွာနေစေခြင်းငှါ၊ နို့ရို့သူငယ်တို့၏နှုတ်ထဲမှာအ
၃ စွမ်းသတ္တိကိုစီရင်တော်မူ၏။- လက်ညှိုးတော်
၄ အလုပ်တည်းဟူသောကိုယ်တော်၏မိုဃ်း
ကောင်းကင်ကို၎င်း၊ ပြင်ဆင်တော်မူသောလနှင့်
ကြယ်များကို၎င်း အကျွန်ုပ်ဆင်ခြင်သော်- လူ
သည်အဘယ်သို့သောသူဖြစ်၍၊ ကိုယ်တော်
သည်အောက်မေ့တော်မူရသနည်း။ လူသား
သည်အဘယ်သို့သောသူဖြစ်၍၊ အကြည့်အရှု
ကြွလာတော်မူရသနည်း။ သူကိုကောင်းကင်တ
၅ မန်တို့အောက်၌အနည်းငယ်နှိမ့်တော်မူပြီ။-သူ
၏ခေါင်းကိုဘုန်းအသရေနှင့်ပတ်ရစ်တော်မူ
၆ ပြီ။-ဖန်ဆင်းတော်မူသောအရာများကိုအုပ်စိုး
၇ စေ၍၊ သိုးနွားအစရှိသောမြေတိရစ္ဆာန်၊ မိုဃ်း
၈ ကောင်းကင်ငှက်၊ ပင်လယ်ငါးနှင့်ပင်လယ်
ထမ်း၌သွားတတ်သောတိရစ္ဆာန်မှစ၍၊ ခပ်
သိမ်းသောအရာတို့ကိုသူ၏ခြေအောက်၌ချ
၉ ထားတော်မူပြီ။- အိုအကျွန်ုပ်တို့၏ဘုရား
ရှင်ထာဝရဘုရား၊ ကိုယ်တော်၏နာမသည်
မြေကြီးတပြင်လုံး၌အလွန်ကြီးမြတ်တော်မူသ
တည်း။

၉

၁ အိုထာဝရဘုရား၊ အကျွန်ုပ်သည်စိတ်နှလုံး
အကြွင်းမဲ့ကိုယ်တော်ကိုချီးမွမ်းပါမည်။ အံ့ဖွယ်
သောအမှုတော်ရှိသမျှတို့ကိုပြန့်နှံ့ပါမည်။-
၂ ကိုယ်တော်ကိုအမှီပြု၍ဝမ်းသာရွှင်လန်းပါ
မည်။ နာမတော်ကိုထောမနာသီခြင်းဆိုပါမည်၊
၃ အမြင့်ဆုံးသောဘုရား။- အကြောင်းမူကား၊ အ
ကျွန်ုပ်၏ရန်သူတို့သည်ပြန်ဆုတ်၍လဲကြပါ၏။
၄ မျက်နှာတော်၌ပျက်စီးကြပါ၏။- ကိုယ်တော်သည်
အကျွန်ုပ်ထက်မှာတရားဆုံးဖြတ်တော်မူပြီ။

ပလ္လင်တော်ပေါ်မှာ ထိုင်၍ ဖြောင့်မတ်စွာ စီရင်
၅ တော်မူပြီ။- တပါးအမျိုးသားတို့ကို ဆုံးမတော်
မူပြီ။ဆိုးသောသူတို့ကို ဖျက်ဆီး၍ သူတို့နာမကို
ကာလ အစဉ်အဆက် ချေဖျောက်တော် မူပြီ။-
၆ ရန်သူ တို့ သည် အ ကုန် အစင် ဖျက် ဆီး ခြင်းသို့
ရောက်ကြပါပြီ။မြို့တို့ကိုဖြိုဖျက်တော်မူ၍၊သူတို့
၇ အမှတ်မျှမရှိ၊ ပျောက်ပါ ပြီ။- ထာဝရ ဘုရားမူ
ကား၊ ကာလ အစဉ် အဆက် တည်တော် မူ၏။
၈ တရား ပလ္လင်တော်ကိုပြင်ဆင်၍- မြေကြီးသား
တို့ကို တရား သဖြင့် စီရင် တော် မူ၏။ လူ မျိုး တို့
အားဖြောင့်မတ်စွာသော စီရင်ခြင်းကို ပြုတော်
၉ မူ၏။- ထာဝရဘုရားသည်ညှဉ်းဆဲခြင်းကိုခံရ
သော သူတို့၏ ခိုလှုံရာ၊ ဘေး အန္တရာယ် ရောက်
၁၀ သည်ကာလ ခိုလှုံရာ ဖြစ်တော်မူ၏။- နာမတော်
ကို သိသောသူတို့သည် ကိုယ်တော်ကိုယုံကြည်
ကြပါလိမ့်မည်။ အကြောင်းမူကား၊ အိုထာဝရ
ဘုရား၊ ကိုယ်တော်ကို ရှာသောသူတို့ကို စွန့်ပြစ်
တော်မမူတတ်ပါ။
၁၁ ဇိအုန် မြို့မှာ ကျိန်းဝပ် တော် မူသော ထာဝရ
ဘုရားကိုထောမနာ သီခြင်း ဆိုကြလော့။ အမှု
တော် ရှား ကို လူ မျိုး တို့ အား ဟော ပြော ကြ
၁၂ လော့။- လူ အသက်သတ်ခြင်းအမှုကို စစ်တော်
မူ၍၊ အသေခံရသောသူတို့ကို အောင်းမေ့တော်
မူ၏။ နှိမ့်ချလျက် ရှိသောသူတို့၏ အော်ဟစ်ခြင်း
အသံ ကို မေ့လျော့တော်မမူတတ်ပါ။
၁၃ အိုထာဝရဘုရား၊ အကျွန်ုပ်ကို ကယ်မသနား
တော်မူပါ။ အကျွန်ုပ်ကိုမုန်းသောသူတို့၏ညှဉ်း
ဆဲခြင်းအမှုကို ကြည့်ရှု၍၊ သေမင်း လက်မှအ
၁၄ ကျွန်ုပ်ကိုကယ် နှုတ်တော်မူပါ။-သို့ဖြစ်၍၊ ဂုဏ်
ကျေးဇူးတော်အပေါင်းကိုဇိအုန် မြို့ တံခါးဝမှာ
အကျွန်ုပ်ပြည့်နှ ပ်ပါမည်။ ကယ်တင်တော်မူခြင်း
ကျေးဇူးကိုအမှီပြု၍၊ဝမ်းမြောက်ပါမည်။
၁၅ တပါး အမျိုး သား တို့သည် ကိုယ် တူး သော
တွင်းထဲ သို့ကိုယ်ကျကြ၏။ကိုယ်ဝှက်ထားသော
ကျော့ကွင်းထဲမှာ ကိုယ်ခြေတို့သည် ကျော့မိကြ
၁၆ ၏။- ထာဝရ ဘုရား သည် တရားစီရင် ဆုံးဖြတ်
တော် မူ ခြင်း အား ဖြင့် ထင် ရှား တော် မူ၏။ မ
တရားသောသူသည် မိမိလုပ်သောအလုပ်ထဲမှာ
၁၇ ကျော့မိခြင်းကို ခံရ၏။-မတရားသောသူတို့နှင့်
ဘုရားသခင်ကို မေ့ လျော့သော အမျိုးသား အ
ပေါင်းတို့သည် မရဏာ နိုင်ငံသို့ ရှုံခြင်းကို ခံရ
၁၈ ကြလိမ့်မည်။- ဆင်းရဲသောသူတို့ကို အစဉ်
မေ့လျော့တော် မမူ။ ဆင်းရဲသော သူ တို့ သည်
မျှော်လင့်၍မရဘဲအစဉ်မနေရကြ။
၁၉ အိုထာဝရ ဘုရား၊ ထတော်မူပါ။ လူ မနိုင်ပါ
စေနှင့်။တပါးအမျိုးသားတို့သည်ရှေ့တော်၌စစ်
၂၀ ကြောစီရင်ခြင်းကို ခံရကြပါစေသော။- အိုထာ
ဝရဘုရား၊ သူတို့ကို ကြောက်လန့် တော်မူပါ။ ထို့
ဖြစ်၍၊မိမိတို့သည်လူသက်သက်ဖြစ်သည်ကိုလူ
မျိုးတို့သည်သိကြပါလိမ့်မည်။

၁၀

၁ အို ထာဝရဘုရား၊ ကိုယ်တော်သည်အဘယ်
ကြောင့်ဝေးဝေးရပ်၍ နေတော်မူသနည်း။ ဘေး
အန္တရာယ် ရောက်သည်ကာလ အဘယ်ကြောင့်
၂ ပုန်းကွယ်၍နေတော်မူသနည်း။- မတရားသော
သူသည်မာနစိတ်ရှိ၍၊ဆင်းရဲသောသူကိုညှဉ်း
ဆဲတတ်ပါ၏။ မိမိပြုသော ပရိယာယ် အား ဖြင့်
၃ ထိုသူကို ဖမ်းဆီးတတ်ပါ၏။- မတရားသော သူ
သည် မိမိစိတ်အလိုရှိ ဝါကြွားတတ်ပါ၏။ လော
ဘကြီးသောသူသည် ထာဝရဘုရားကိုပယ်၍၊
၄ မထီမဲ့မြင်ပြုတတ်ပါ၏။- မတရားသော သူသည်
မာနထောင်လွှားသောကြောင့်၊မစည်းစားတတ်
ပါ။ ဘုရားသခင်မရှိဟုအစဉ် အောင်းမေ့တတ်
၅ ပါ၏။-အစဉ်မိုင်မာစွာကျင့်ကြံပြုမူတတ်ပါ၏။
တရားစီရင်တော်မူချက်တို့သည် သူနှင့်ဝေးခြင့်
သည်ဖြစ်၍၊ ခပ် သိမ်း သော ရန်သူတို့ကို မထီမဲ့
၆ မြင်ပြုတတ်ပါ၏။- ငါသည်အစဉ်မရွေ့ရ၊ဆင်း
ရဲခြင်းသို့ မရောက်ရဟု အောင်းမေ့တတ်ပါ၏။-
၇ သူ၏ နှုတ် သည် ကျိန် ဆဲခြင်း၊ လှည့် စား ခြင်း၊
ရှုတ်ချခြင်းနှင့် ပြည့်ဝပါ၏။ လျှာ အောက် မှာမ
ကောင်း သော အကြံ နှင့် မတရားသော အမှုရှိပါ
၈ ၏။- ရွာအနားတွင် ပုန်းနေရာ အရပ်မှာ ထိုင်၍၊
အ ပြစ် မရှိသော သူကို ဆိတ် ကွယ် ရာ အ ရပ်၌
သတ် တတ် ပါ ၏။ ဆင်း ရဲ သော သူ ကို ချောင်း
၉ မြောင်းတတ်ပါ၏။- မြို့ထဲမှာနေသောခြင်သေ့ကဲ့
သို့ကွယ်ရာအရပ်၌ပုန်း၍နေတတ်ပါ၏။ဆင်းရဲ
သောသူကို ဖမ်းဆီး ခြင်း ငှါ ပုန်းကွယ်၍ နေပါ
၏။ ဆင်းရဲသောသူကို ကွန်ရက်ထဲသို့ဆွဲ၍ ဖမ်း
၁၀ ဆီးတတ်ပါ၏။- ထိုသို့ညှဉ်းဆဲနှိပ်စက်ခြင်းကို
ခံရ၍၊ ဆင်းရဲသော သူအပေါင်း တို့သည် သူ၏
၁၁ ထက်သို့ ကျ ရောက်တတ် ကြ ပါ ၏။- ထိုသူက၊
ဘုရားသခင်သည် မေ့လျော့တော်မူ၏။ မျက်နှာ
ကို လွှဲတော် မူ၏။ မြင် တော် မ မူဟု အောင်းမေ့
တတ်ပါ၏။

၁၂ အိုထာဝရဘုရား၊ ထ‌ြတော်မူပါ။ အိုဘုရား
သခင်၊လက်တော်ကိုချီတော်မူပါ။နှိမ့်ချလျက်ရှိ
၁၃ သောသူတို့ကိုမေ့လျော့တော်မမူပါနှင့်။- မ
တရားသောသူသည် ဘုရားသခင်ကို အဘယ်
ကြောင့် မထီမဲ့မြင်ပြုရပါအံ့နည်း။ ကိုယ်တော်
သည် စစ်တော်မမူဟု အဘယ်ကြောင့် အောင်း
၁၄ မေ့ရပါအံ့နည်း။- ထိုသော်လည်း၊ ကိုယ်တော်
သည်မြင်တော်မူပြီ။ အကြောင်းမူကား၊ ပင်ပန်း
စေခြင်းနှင့် နှောင့်ရှက်စေခြင်းကို လက်ဝါး
တော်၌ မှတ်သားမည်ဟု ကြည့်ရှုတော်မူတတ်
ပါ၏။ ဆင်းရဲသောသူသည် ကိုယ်တော်၌ကိုယ်
ကို အပ်တတ်ပါ၏။ ကိုယ်တော်သည် မိဘမရှိ
၁၅ သောသူ၏ မိတ္တံ့ရာ ဖြစ်တော်မူ၏။- မတရားသ
ဖြင့်ပြု၍ ဆိုးသောသူ၏ လက်ရုံးကို ချိုးတော်မူ
ပါ။ သူပြုသော အဓမ္မအမှုကို အကုန်အစင် စစ်
တော်မူပါ။

၁၆ ထာဝရဘုရားသည်ကာလအစဉ်အမြဲတည်
သောရှင်ဘုရင် ဖြစ်တော်မူ၍၊တပါးအမျိုးသား
တို့သည် နိုင်ငံတော်ထဲက ကွယ်ပျောက်ကြပါ
၁၇ လိမ့်မည်။- အိုထာဝရဘုရား၊ ကိုယ်တော်သည်
နှိမ့်ချလျက်ရှိသော သူတို့၏ တောင့်တခြင်းအ
သံကို ကြားတော်မူ၏။ သူတို့၏ စိတ်နှလုံးကို
၁၈ တည်ကြည်စေတော်မူ၏။- ဆင်းရဲသားကိုသူ၏
မြေမှတဖန်မနှင်ထုတ်မည်အကြောင်း၊ မိဘမရှိ
သောသူနှင့် ညှဉ်းဆဲခံရသော သူတို့ကို တရား
ပေးခြင်းငှါနားတော်ကိုဖွင့်တော်မူ၏။

၁၁

၁-၃ မတရားသောသူတို့သည်သဘောဖြောင့်သော
သူတို့ကို မထင်မရှား ပြစ်အံ့သော ငှါ၊ လေးကို
တင်၍၊ ထေးညို့ ပေါ်မှာ မြားကို ဖွင်ကြ၏။ အမြစ်
တကဲတို့သည်ပျက်လျှင်ဖြောင့်မတ်သောသူသည်
အဘယ်သို့ပြုနိုင်သနည်း။ ငှက်သည်အခါး သင်
သည်ငှက်ကဲ့သို့၊ ကိုယ်နေရာတောင်ပေါ်သို့ ပြေး
ချေဟု၊ အဘယ်ကြောင့် ပြောကြသနည်း။ ထာ
၄ ဝရဘုရားသည် ငါမှီခိုရာ ဖြစ်တော်မူ၏။- ထာ
ဝရဘုရားသည် သန့်ရှင်းသော ဗိမာန်တော်၌
ရှိတော်မူ၏။ ထာဝရဘုရား၏ ပလ္လင်တော်သည်
ကောင်းကင် ပေါ်မှာတည်၏။ မျက်စိတော်သည်
ကြည့်ရှု၍၊ မျက်ခမ်းတော်သည် လူသားတို့ကို
၅ စစ်တော်မူ၏။- ထာဝရဘုရား သည် ဖြောင့်မတ်
သောသူကို စုံစမ်းတော်မူ၏။ မတရားသော သူ
နှင့် ထူပူဖျက်ဆီး လိုသော သူကို ပြည့်ကြည်တော်
၆ သည်မုန်းတော်မူ၏။-မတရားသောသူတို့အပေါ်
မှာတောက်သောမီးခဲ၊ကန့်နှင့်ရောသောမီးလျှံ၊
ပူလောင်သောမုန်တိုင်းကိုသက်ရောက်စေ၍၊သူ
၇ တို့သောက်စရာတို့ စီရင်တော်မူမည်။-တရားသ
ဖြင့်ပြုတော်မူသောထာဝရဘုရားသည်၊ တရား
သောအမှုကိုနှစ်သက်၍သဘောဖြောင့်သောသူ
ကိုမျက်နှာပြုတော်မူ၏။

၁၂

၁ အိုထာဝရဘုရား၊ ကယ်တင်တော်မူပါ။ သူ
တော်ကောင်းမျိုးသည်ပြတ်၍၊ သစ္စာရှိသောလူ
မျိုးသည် လူသားတို့တွင် ကွယ်ပျောက်ပါ၏။-
၂ အိမ်နီးချင်းတို့သည် တဦးကိုတဦး ဗုသာသုံး
၍၊ချော့မော့သောနှုတ်ခမ်း၊ နှစ်ခွသောစိတ်နှင့်
၃ ပြောတတ်ကြပါ၏။- ငါတို့သည် ကိုယ်လျှာ
၄ အားဖြင့်နိုင်မည်။ ကိုယ်နှုတ်ခမ်းသည်ကိုယ်အ
ပူကို စောင့်လိမ့်မည်။ ငါတို့၏သခင်ကား၊ အ
ဘယ်သူနည်းဟုပြောဆိုသောသူတို့၏ ချော့မော့
သောနှုတ်ခမ်းနှင့်ဝါကြွားသောလျှာရှိသမျှတို့
၅ ကိုထာဝရဘုရားသည်ဖြတ်တော်မူမည်။-ဆင်း
ရဲသောသူ သည်ခံရသော ညှဉ်းဆဲခြင်း၊ ငတ်
မွတ်သော သူ၏ ပိုကျွေးခြင်းကြောင့် ယခုငါထ
မည်။ကဲ့ရဲ့ခြင်းကိုခံရသောသူအားချမ်းသာပေး
မည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၆ ထာဝရဘုရား မိန့်တော် မူချက်တို့သည် သန့်
ရှင်းခြင်းရှိ၍၊ မြေနှင့်ကင်းစင်စေခြင်းငှါ၊မိုက်၌
၇ ခုနှစ်ကြိမ်စစ်သောငွေကဲ့သို့ဖြစ်ကြ၏။- အိုထာ
ဝရဘုရား၊ ကိုယ်တော်သည် ထိုသူတို့ကို ဤလူ
မျိုးမှ အစဉ် ကွယ်ကာစောင့်မတော်မူမည်။-
၈ ဆိုးယုတ်သော သူတို့သည် ချီးမြှောက်ခြင်းသို့
ရောက်သည်ကာလ၊ မတရားသော သူတို့သည်
အရပ်ရပ်လှည့်လည်ရသောအခွင့်ရှိကြ၏။

၁၃

၁ အိုထာဝရဘုရား၊ အကျွန်ုပ်ကို အလျှင်းမ
မှတ်ဘဲအဘယ်မျှကာလပတ်လုံးမေ့လျော့တော်
မူမည်နည်း။ အဘယ်မျှကာလပတ်လုံးမျက်နှာ
၂ တော်ကိုကွယ်ထားတော်မူမည်နည်း။-အကျွန်ုပ်
သည်အစဉ်ဝမ်းနည်းလျက်၊အဘယ်မျှကာလ
ပတ်လုံးတွေးတောသော စိတ်ရှိရပါမည်နည်း။
အကျွန်ုပ်၏ ရန်သူသည် အဘယ်မျှ ကာလ ပတ်
၃ လုံး၊အကျွန်ုပ်ကိုအုပ်စိုးရပါမည်နည်း။-အကျွန်ုပ်
၏ဘုရားသခင် ထာဝရဘုရား၊ အကျွန်ုပ် စကား
ကိုမျက်နှာပြု၍ နားထောင်တော်မူပါ။ အကျွန်ုပ်

ရှုတ်ချီးကိုသင်းစေတော်မူပါ၊ ထိုမှတပါးတိ်ကျွန်အ
၃ သေ အိပ်ပျော် ခြင်း သို့ ရောက် ရ ပါ မည်။ အ
ကျွန်ုပ်၏ ရန်သူက၊ ငါနိုင်ပြီဟု ဆို၍၊ အကျွန်ုပ်
ကိုနှောင့်ရှက်သော ဘူတို့သည်၊ အကျွန်ုပ် လှုပ်
၄ ရှားသည်ကို ဝမ်း မြောက် ကြပါလိမ့်မည်။ အ
ကျွန်ုပ် သည်ကရုဏာ တော်ကို ထုံကြည် ပါ၏၊
ကယ်တင်တော် မူခြင်းအရာ၌ နှစ်လုံး ရွှင်လန်း
၅ ပါလိမ့်မည်။- အကျွန်ုပ် ၌ ကျေးဇူး ပြု တော်မူ
သောကြောင့်၊ ထာဝရ ဘုရားကို သော မနာ သီ
ခြင်းဆိုပါမည်။

၁၄

၁ ဘုရား ထသင် မရှိဟု၊ မိုက် သောသူသည်ထင်
ထတ်၏၊ ထိုသို့သောသူတို့သည်ဆွေးမြေ့ပိုပွင်း
၍၊ စက်ဆုပ် ဖွယ်သော အမှုကို ပြုတတ်ကြ၏၊
ကောင်းသော အမှုကိုပြုသောသူတယောက်မျှမ
၂ ရှိ။-နားလည်သောသူ၊ ဘုရားသခင်ကိုရှာသောသူ
တစုံတယောက်ရှိသည်မရှိသည်ကိုသိမြင်ခြင်း
ငှါ၊ ထာဝရဘုရားသည်ကောင်းကင်ပေါ်က၊လူ
၃ သားတို့ကိုငုံ၍ကြည့်ရှုတော်မူ၏။- လူအပေါင်း
တို့သည် ထမ်း လွဲ ကြပြီ၊ တညီ တညွတ် တည်း
ဆွေး မြေ့ ထို ပွင်း ခြင်း ရှိ ကြ၏၊ ကောင်း သော
အကျင့်ကိုကျင့်သောသူမရှိ။တယောက်မျှမရှိ။
၄ ရှိန်ကို စား သကဲ့သို့ ငါ၏ လူတို့ကို ကိုက် စား
၍၊ထာဝရဘုရားကို ပဌနာ မပြုသော အဓမ္မ လူ
၅ အပေါင်းတို့သည် မသိဘဲနေရကြသလော။-သို့
ဖြစ်၍၊ အလွန်ကြောက် လန့် ကြလိမ့် မည်။ အ
ကြောင်းမူကား၊ ဘုရားသခင်သည် ဖြောင့်မတ်
၆ သော လူမျိုးအကျင်၌ ရှိတော်မူ၏။- နှိမ့်ချလျက် ရှိ
သော သူ သည် ထာဝရ ဘုရား ကို ခို လှုံ သော
ကြောင့်၊ သင်တို့သည်သူ၏ အကြံအစည်ကို အ
၇ ရှက်ကွဲစေ တတ် ကြ၏။- ဣသရေလ အမျိုး ကို
ကယ် တင် ခြင်း ကျေး ဇူး တော် သည်၊ ဇိ အုန်
တောင်ပေါ်မှာပေါ်ထွန်းပါစေသော။ သိမ်းသွား
ခြင်းကို ခံရသော လူမျိုးတော်ကို၊ တဖန်ထာဝရ
ဘုရား သည် ဆောင်ခဲ့တော် မူသော အခါ၊ ယာ
ကုပ် သည် ဝမ်း မြောက်ခြင်း၊ ဣသရေလသည်
ထည်းရွှင်လန်းခြင်းရှိလိမ့်မည်။

၁၅

၁ အိုထာဝရဘုရား၊ထဲတော်၌အထယ်သူသည်
တည်းရပါမည်နည်း။ သန့် ရှင်းသော တောင်
တော်ပေါ်မှာအဘယ်သူသည် နေရပါမည်နည်း။
၂ ထူ မူကား။- ဖြောင့် မတ် သော အကျင့်၊ တရား
သောအမှုကိုပြုကျင့်၍၊ သစ္စာစကားကို စိတ်နှ
၃ လုံးပါလျက် ပြောသောသူ၊- လူတပါး၏ အသ
ရေကိုပျက်စေခြင်းငှါပြောဆိုခြင်း၊ကိုယ်နှင့်စပ်
ဆိုင်သောသူ၏ဘေးကိုပြုခြင်း၊ကိုယ်နှင့်
စပ်ဆိုင်သောသူကိုလည်းကဲ့ရဲ့ခြင်းကိုရှောင်သ
၄ သော၊- ဆိုးယုတ်သောသူကို အယုတ်ဟူ၍ထင်
မှတ် လျက်၊ ထာဝရ ဘုရား အား ကြောက် ရွံ့
သောသူကို ရိုသေလေးစား၊ ကိုယ် အကျိုး ယုတ်
ရသော်လည်း၊ ကိုယ် ကျိန် ဆိုသော သစ္စာစကား
၅ ကိုမဖျက်၊- ကိုယ်ငွေကို ချေး၍ အတိုးမယူ၊ အ
ပြစ်မရှိသောသူ၏တဘက်၌၊တံစိုးကိုမခံထဲကျင့်
သော လူသည် လှုပ် ရှား ခြင်း နှင့် အစဉ် အမြဲ
ကင်းလွတ်လိမ့်သတည်း။

၁၆

၁ အကျွန်ုပ်ကို စောင့်မတော် မူပါ ဘုရား။ ကိုယ်
၂ တော်ကိုအကျွန်ုပ်ခိုလှုံပါ၏။-ကိုယ်တော်သည်
အကျွန်ုပ်၏ သခင်ဖြစ်တော်မူသည်ဟု၊ ထာဝရ
ဘုရားကို အကျွန်ုပ် လျှောက် ဆိုပါပြီ၊ ကျေးဇူး
တော်မှ တပါး၊ အခြား သော မင်္ဂလာသည် အ
၃ ကျွန်ုပ်၌မရှိပါ။- ပြည်တော်၌ နေသောသန့်ရှင်း
သူနှင့်ထူး ဆန်း သော သူတို့ကိုသာ နှစ် သက်ပါ
၄ ၏၊ အခြားသောထမ်းသို့လိုက်ပြေးသောသူတို့
သည် များ စွာသော ဆင်းရဲဒုက္ခကို ခံရကြလိမ့်
မည်၊ ငါသည်သူတို့ သွန်းလောင်းရာ ပူဇော် သ
ကာအသွေးကို မလှူမဆက်လို၊ သူတို့ ဘုရား၏
၅ နာမကိုမမြွက်လို။- ထာဝရ ဘုရားသည် ငါအ
မွေခံရာ အဖို့၊ ငါ စား သောက်ရာ အဖို့ ဖြစ်တော်
မူ၏၊ကိုယ်တော်သည် အကျွန်ုပ် အမွေ အနှစ်ကို
၆ စောင့်ရှောက်တော်မူ၏။-ငါပိုင်ထိုက်သောနယ်
နိမိတ် သည် သာယာ သော အရပ် တွင် ကျ၍၊
ကောင်းမွန်သောအမွေကိုငါခံရပြီ။
၇ ငါ့ကို ပြု စု တော် မူ သော ထာဝရ ဘုရား ကို
ကောင်းကြီး ပေးမည်၊ ညည့်အချိန်၌ ယာ်နှ
၈ လုံးသည် ငါ့ကို နှိုးဆော်တတ်၏။- ငါသည်ထာ
ဝရဘုရားကိုအစဉ်မပြတ်မျက်မှောက်ပြု၏။အ
ကြောင်းမူကား၊လက်ျာဘက်၌တည်ရှိတော်မူ
သည်ဖြစ်၍၊ ငါသည် လှုပ်ရှား ခြင်း မရှိရ။ ထို
၉ ကြောင့် ငါ့စိတ် နှလုံးသည် သာယာခြင်း၊- ငါ့ဂို
ဏ်သည်လည်း ရွှင်လန်းခြင်း ရှိ၏၊ ထိုမှတ
ပါး၊ ငါ့အသားသည် မျှော်လင့် လျက် ကိန်းဝပ်
၁၀ လိမ့် မည်။- အကြောင်း မူ ကား၊ ကိုယ် တော်
သည် အကျွန်ုပ်၏ ဝိညာဉ်ကို မရဏာနိုင်ငံ၌ ပြစ်

ထာဝရဘုရား၊ ကိုယ်တော်၏ အနီးရှင်ဘေးဘသာအ
အား ထည်း၊ ဝပ်စပ်ခြင်းကို မှီဝေတော် မူသဲ
၁၁ လျှက်၊– အသက်ရှင်ခြင်းလမ်းကိုပြည့်နီတော်
မူလိမ့်မည်၊ အထံတော်၌ ပြည့်စုံသော ဝမ်း
မြောက်ခြင်းအခွင့်နှင့်၊ လက်ျာတော်နားမှာအ
စဉ်အမြဲပျော်မွေ့ခြင်းအခွင့်ရှိပါ၏။

၁၇

၁ အိုထာဝရဘုရား၊ တရားသောအကြောင်းနေ၍၊
အကျွန်ုပ်အော်ဟစ်ခြင်းကို မှတ်တော် မူပါ၊ မ
ဖြည့်စားတတ်သော နှုတ်နှင့် ဆုတောင်းသော
၂ ပဌနာစကားကို နားထောင် တော်မူပါ။– ကိုယ်
တော်တိုင်အကျွန်ုပ်ကိုစီရင်၍၊ ဖြောင့်မတ်သော
၃ အရာကိုထောက် ရှုတော်မူပါ။–အကျွန်ုပ်နှစ်လုံး
ကိုစစ်ဆေးတော်မူပါ၊ညည့်အခါအကျွန်ုပ်ကိုအ
ကြည့်အရှုကြွလာတော်မူပါ၊ အကျွန်ုပ်ကိုစစ်
ကြောသောအခါ၊အထယ်အပြစ်ကိုမှုတွေ့တော်
မမူရ၊ အကျွန်ုပ် အကြံ အစည်သည် အကျွန်ုပ်
၄ စကားနှင့်မခြားမနားပါ။–လူပြုတတ်သော အမှု
အရာမှာ၊ ဖျက်ဆီးတတ်သော သူ၏ လမ်းတို့ကို
နှုတ်ကပတ်တော် အားဖြင့် အကျွန်ုပ် ရှောင်ပါ
၅ ပြီ။–လမ်းခရီးတော်၌ အကျွန်ုပ် သွားစည် တွင်၊
၆ ခြေမချော်စေခြင်းငှါ ထောက်မတော် မူပါ။– အို
ဘုရားသခင်၊ ကိုယ်တော်သည်နားထောင်တော်
မူတတ် သောကြောင့်၊ အကျွန်ုပ်သည် တောင်း
မလျှောက် ပါ၏၊ နားတော်ကို လှည့်၍ အကျွန်ုပ်
စကားကိုနားထောင်တော်မူပါ။
၇ ကိုယ်တော်ကိုမှီခို့သောသူတို့ကို သူပုန်တို့
ထံမှ၊လက်ျာလက်တော်အားဖြင့် ကယ်နှုတ်
တော်မူသောဘုရား၊ထူးဆန်းသောမေတ္တာကျေး
၈ ဇူးတော်ကိုပြတော်မူပါ။–အကျွန်ုပ်ကိုညှဉ်းဆဲ
၉ သောလူဆိုးတည်းဟူသော၊ အကျွန်ုပ်ကိုဝိုင်း၍
အသက်ဆိုသော ရန်သူ တို့ လက်မှ၊ အကျွန်ုပ် ကို
လွတ်စေ ခြင်း ငှါ၊ မျက်ဆန် ကဲ့သို့ အကျွန်ုပ်ကို
စောင့်မတော်မူပါ၊ အတောင်တော်အရိပ်ထဲမှာ
၁၀ ဝှက်ထားတော်မူပါ။– သူတို့သည်မိမိတို့အဆီခြင်း
ကိုပိုးစား၍၊ ထောင်လွှားစော်ကားစွာပြောဆို
၁၁ ကြပါ၏။– အကျွန်ုပ်တို့ သွားသော လမ်းကို ယခု
ဝိုင်းမိကြပါပြီ၊ အကျွန်ုပ်တို့ကိုမြေပေါ်မှာလှည်း
၁၂ ခြင်းငှါ မျက်စိနှင့်ရှုယ်ကြပါ၏။– ဝမ်းမိသောအ
ကောင်ကို စားချင် အားကြီး သော ခြင်သွေ့ ကဲ့သို့
၎င်း၊ ဆိတ်ကွယ်ရာအရပ်၌ချောင်း၍ နေသောခြင်
၁၃ သွေ့ပျိုကဲ့သို့၎င်းဖြစ်ကြပါ၏။–အိုထာဝရဘုရား၊
ထတော်မူပါ၊သူတို့ကိုဆီးတား၍ ဖြည်းချတော်
မူပါ၊ မတရားသော သူတို့လက်မှ၊ အကျွန်ုပ် အ
သက်ကိုထားတော်ဖြင့်ကယ်လွှတ်တော်မူပါ။–
၁၄ အိုထာဝရဘုရား၊ လောကီသား ဖြစ်သောထိုလူ
တို့ထက်မှ၊ အကျွန်ုပ်အသက်ကိုလက်တော်ဖြင့်
ကယ်လွှတ် တော်မူပါ၊ ထိုသူတို့သည် ယခုဘဝ
မှာ မိမိတို့အဘို့ ကိုခံရ ကြ ပါ၏၊ သူတို့ အထို ကို
ဘဏ္ဍာတော်နှင့်ပြည့်စုံစေတော်မူ၏၊သူတို့သား
သမီးတို့သည်လည်း ကြွယ်ဝ၍၊ ကြွင်းမြစ် သည်
၁၅ တို့၌မိမိတို့ဥစ္စာကိုချန်ထားကြပါ၏။– အကျွန်ုပ်
မူကား ဖြောင့်မတ်၍၊ မျက်နှာတော်ကို ဖူးမြင်ရ
ပါလိမ့်မည်၊ နိုးသောအခါ ပုံသဏ္ဌာန်တော်အား
ဖြင့်၊အကျွန်ုပ်အလိုပြည့်စုံရပါလိမ့်မည်။

၁၈

ထာဝရ ဘုရား ၏ ကျွန် ဒါဝိဒ်သည် ရှောလုမင်းမှ
စ၍၊ ရန်သူအပေါင်းတို့လက်မှကယ်လွှတ်
တော်မူခြင်းကျေးဇူးကိုခံရသောအ
ခါ၊ ထာဝရဘုရားရှေ့တော်၌
မြွက်ဆိုသော သီခြင်း
စကားဟူမူကား။

၁ အိုထာဝရဘုရား၊ အကျွန်ုပ်၏ ခွန်အားဗလ
တည်းဟူသောကိုယ်တော်ကိုအကျွန်ုပ်ချစ်ပါ၏။–
၂ ထာဝရဘုရားသည်ငါ၏ကျောက်၊ငါ၏မြို့ရိုး၊ငါ့ကို
ကယ်လွှတ်သော သခင်၊ ငါ၏ဘုရား၊ ငါကိုးစား
သော အစွမ်းသတ္တိ၊ ငါ၏ အကွယ်အကာ၊ ငါ့ကို
ကယ် တင် သော ဦးချို၊ ငါ၏ ရဲတိုက် ဖြစ် တော်
၃ မူ၏။– ချီးမွမ်းအပ် သော ထာဝရ ဘုရား ကို ငါ
တောင်းလျှောက်၍၊ရန်သူတို့လက်မှကယ်တင်
၄ ခြင်းသို့ရောက်၏။– သေခြင်းကြိုးတို့သည် ငါ့ကို
ဝိုင်းမိ၍၊ဖျက်ဆီးတတ်သောရေစီးခြင်းကြောင့်
၅ ငါကြောက်လန့်ရ၏။– မရဏာနိုင်ငံ၏ ကြိုးတို့
သည်ဝိုင်း၍၊ သေမင်း၏ ကျော့ကွင်းသည် ငါ့ကို
၆ ကျော့မိလျက် ရှိ၏။– ထိုသို့ ငါသည် ဆင်းရဲ ပြို
ငြင်သော အခါ၊ ထာဝရ ဘုရားကိုခေါ်၍၊ ငါ၏
ဘုရားသခင်ကို အော်ဟစ် လေ၏၊ ခေါ်သောအ
သံကိုဗိမာန်တော်ထဲမှာကြားတော်မူ၍၊ အော်
ဟစ်သောအသံသည်နားတော်ထဲသို့ဝင်လေ၏။
၇ ထိုအခါ အမျက်တော် ထွက် သော အားဖြင့်
မြေကြီး တုန်လှုပ်၍၊ တောင် အမြစ်တို့သည် တ
၈ ရွေ့ရွေ့ လှုပ်ရှားကြ၏။– နှာခေါင်း တော်ထဲက
မီးခိုးထွက်၍၊ နှုတ်တော်ထဲက မီးလောင်သော
၉ အားဖြင့်၊ မီးခဲတောက်လေ၏။– မိုဃ်းကောင်း

ထင်ကိုညွှတ်သဖြင့် ဆင်းသက်တော်မူ၍၊ ခြေ
၁၀ တော်အောက်၌မှောင်မိုက်ဖြစ်သတည်း၊ ခေရု
ဗိမ်ကိုစီးလျက်ပျံတော်မူ၏၊ လေ၏အတောင်တို့
၁၁ အပေါ်မှာလျှင်ရွှာ ပျံတော်မူ၏။ မှောင်မိုက်ထဲ
မှာဝှန်းကွယ်တော်မူ၍၊တခဲနက်သောရေနှင့်ထူ
ထပ်သော မိုဃ်းတိမ် တို့သည်၊ ကိုယ်တော် ကို
၁၂ ကာရံလျက် ရှိကြ၏။ ရှေ့တော်၌ ရောင် ခြည်
ကြောင့် တိမ်ထပ်တို့သည် မိုဃ်းသီးနှင့် မီးခဲပါ
၁၃ လျက်လွင့်ကြ၏။ ထာဝရဘုရားသည် ထည်း၊
ကောင်းကင် ပေါ်မှာ မိုဃ်း ခြိမ်း၍၊ အမြင့်ဆုံး
သောဘုရားသည်အသံတော်ကိုလွှင့်တော်မူ၏။
၁၄ မြှားတော်တို့ကိုပြစ်၍၊ လျှပ်စစ်ပြတ်စေသ
ဖြင့်၊ ရန်သူတို့ကို အရပ်ရပ်သို့ ကွဲ၍ ရှုံးစေတော်
မူ၏။
၁၅ ထိုအခါ အိုထာဝရဘုရား၊ ကိုယ်တော်သည်
အပြစ်တင်၍၊ နှာခေါင်းတော်ထဲက အသက် ရှူ
တော်မူသောအားဖြင့်၊သမုဒ္ဒရာအောက်ပြင်နှင့်
လောက ထိုက် မြစ် တို့သည် ပွင့် ထင် ပေါ်
၁၆ လျက်ရှိကြ၏။-ထာဝရဘုရားသည်အထက်အ
ရပ်က လက်တော်ကို ဆန့်၍၊ တခဲနက်သော ရေ
၁၇ ထဲကငါကို ဆယ်ယူတော်မူ၏။- ငါ့ကို ရန်းသော
သူတဦးဟူသော၊ ငါပြိုင်၍မနိုင်နိုင်အောင်ခွန်
အားကြီးသောရန်သူတို့ထက်မှငါ့ကို ကယ်ယွတ်
၁၈ တော်မူ၏။- ဘေးဥပါဒ် ရောက်သောကာလ၌၊
သူတို့သည်ဆီးတားသော်လည်း၊ ထာဝရဘုရား
၁၉ သည် ငါမှီခိုရာ ဖြစ် ၍- ငါ့ကို ကျယ် ဝန်းရာ အ
ရပ်သို့ ပို့ဆောင်တော် မူ၏၊ ငါ့ကို နှစ်သက်သော
ကြောင့်ကယ်ယွတ်တော်မူ၏။
၂၀ ငါဖြောင့်မတ်ခြင်း ရှိသည် အလျောက်၊ ထာ
ဝရဘုရားသည် အကျိုးကို ပေး ၍၊ ငါ့လက် စင်
၂၁ ကြယ်ခြင်း၏ အကျိုး ကို မီရင် တော် မူ၏။- အ
ကြောင်းမူကား၊ ငါသည်ထာဝရဘုရား၏လမ်း
တော်သို့အစည် လိုက်၏၊ ငါ၏ ဘုရားသခင်ထံမှ
ဖြစ်မှား၍ မသွား။- မီရင်တော်မူချက် ရှိသမျှကို
ငါသည်မှတ်မှောက်ပြု၏၊ အထုံးအဖွဲ့ တော်တို့
၂၂ ကိုမပယ်။-ရှေ့တော်မှာဖြောင့်မတ်၍၊ကိုယ်ရစ
၂၃ မှုကိုကြည်ရှောင်၏။- ထိုကြောင့်ရှေ့တော်မှာ
ထင်ရှားသော ငါ၏ ဖြောင့် မတ် ခြင်း၊ လက်စင်
ကြယ်ခြင်းရှိသည်နှင့်အလျောက်ထာဝရဘုရား
၂၄ သည် ငါ၌ အကျိုး ကို ပေးတော်မူပြီ။- သနား
တတ်သောသူအား ကိုယ်တော်သည်သနားခြင်း
သဘောကိုရင်၊ ဖြောင့်မတ်သောသူအား ဖြောင့်
၂၅ မတ်ခြင်းသဘောကိုရင်-ထန့်ရှင်းသောသူအား
ထန့်ရှင်းခြင်း သဘောကိုရင်၊ ဆန့်ကျင်သောသူ
အား ဆန့် ကျင်သော သဘောကို ရင် ပြတော်မူ
၂၆ ၏။- နှိမ့်ချလျက် ရှိသော လူတို့ကို ကိုယ် တော်
သည်ကယ်တင်၍၊ ထောင်လွှားသော မျက်နှာ
၂၇ ကိုမူကား၊ ရှုတ်ချတော်မူ၏။- အိုထာဝရဘုရား၊
ကိုယ်တော်သည် အကျွန်ုပ်၏ မီးခွက်ကို ထွန်း
၍၊ အကျွန်ုပ်၏ ဘုရားသခင် သည် အကျွန်ုပ်၏
၂၈ မှောင် မိုက်ကို ထင်း စေ တော် မူ၏။- အကျွန်ုပ်
သည် ကိုယ်တော်ကို အမှီပြု၍၊ တပ်ကိုမှတ်ပါ
ပြီ၊အကျွန်ုပ်၏ဘုရားသခင်ကိုအမှီပြုလျက်မြို့ရိုး
ကိုကျော်၍ဝင်ပါပြီ။
၂၉ ဘုရားသခင် မီရင် တော် မူသော အမှု သည်စုံ
လင်၏၊ ထာဝရဘုရား၏သ နှုတ်တော်သည်စစ်
စ်၍တည်၏၊ မှီခိုသောသူအပေါင်းတို့၏အကွယ်
၃၀ အကာဖြစ်တော်မူ၏။-ထာဝရဘုရားမှတပါးအ
ဘယ်ဘုရားသခင်ရှိသနည်း၊ငါတို့ဘုရားသခင်
မှတပါး၊အဘယ်မည်သောကျောက်ရှိသနည်း။-
၃၁ ထိုဘုရားသခင်သည် ငါ့ကိုခွန်အား ခါးပန်းနှင့်
စည်း၍၊ ငါသွားရာ လမ်း ကို ဖြောင့် စေတော်မူ
၃၂ ၏။-ငါ့ခြေကိုသမင်ခြေကဲ့သို့လျင်မြန်စေ၍၊ငါ၏
မြင့်ရာ အရပ်ပေါ်မှာ ငါ့ကိုတင်ထား တော်မူ၏။-
၃၃ ငါ့လက်ကိုစစ်မှု၌လေ့ကျက်စေခြင်းငှါ၊ ဆုံးမသွန်
တော်မူ၍၊ ကြေးဝါလေးကိုငါ့လက်ရုံးနှင့်ငါတင်
နိုင်၏။
၃၄ ကိုယ်တော်သည် ကယ်တင်တော်မူခြင်းဒိုင်း
လွှားကိုအပ်၍၊လက်ျာလက်တော်အားဖြင့်မစ
တော်မူ၏၊ သည်းခံတော် မူခြင်း အား ဖြင့်၊ အ
၃၅ ကျွန်ုပ်သည်ကြီးမြတ်ခြင်းသို့ရောက်ပါ၏။-အ
ကျွန်ုပ် သွားသော လမ်း ကို ရှင်း လင်း၍ ခြေ
၃၆ ချော် စေခြင်းငှါ၊ ပြုတော် မူသော အားဖြင့်- အ
ကျွန်ုပ်သည်ရန်သူတို့ကိုလိုက်၍မှီသဖြင့်၊သူတို့
ကိုမပယ်ရှင်းမှီတိုင်အောင်မပြန်ပါ။-သူတို့သည်
အကျွန်ုပ် ခြေအောက်မှာလဲလျက်ရှိ၍၊ မထ နိုင်
၃၇ အောင်အကျွန်ုပ်သည်နှိပ်နင်းပါ၏။-အကြောင်း
မူကား၊စစ်တိုက်စေခြင်းငှါကိုယ်တော်သည်အ
ကျွန်ုပ်ကိုခွန်အားခါးပန်းနှင့်စည်း၍၊ အကျွန်ုပ်
တဖက်၌ထသောသူတို့ကို အကျွန်ုပ်အောက်မှာ
၃၈ ညွှတ်စေတော်မူ၏။- အကျွန်ုပ်ကို ရန်းသောရန်သူ
တို့၏ လည်ပင်းကို အကျွန်ုပ်၌ အပ်၍၊ မုန်းဆဲ
၃၉ ရသော အခွင့်ကို ပေး တော် မူ၏။- သူတို့ သည်
အော်ဟစ်ကြသော အခါ၊ ကယ်တင်သော သူမ

မျိုး၊ ထာဝရဘုရားကို အော်ဟစ်သော်လည်း၊ ထူး
၄၂ တော်မမူ။— ထိုအခါ အကျွန်ုပ်သည် သူတို့ကို လေ
တိုက်သော မြေမှုန့်ကဲ့သို့၊ ညက်ညက် ခြေပြီး
မှ၊ လမ်း၌ အမှိုက်ကဲ့သို့ သွန်ပစ်လေ၏။
၄၃ လူစု ထိုသည် ဆိုင်ပြိုင် တိုက်ဖျက် ခြင်းမှ၊ အ
ကျွန်ုပ်ကို ကယ်နှုတ်၍၊ တပါးအမျိုးသား တို့၏
အကဲအချုပ် အရာ၌ ခန့်ထား တော် မူသော အား
ဖြင့်၊ အကျွန်ုပ်မသိဘူးသော လူစုသည် အကျွန်ုပ်
၄၄ ထံ၌ ကျွန် ခံပါ၏။— အကျွန်ုပ် စကား သံကို ကြား
သည် ခဏချင်းတွင် နားထောင် ပါ၏။ တပါးအ
မျိုးသားတို့သည် အကျွန်ုပ်ကို တောင်းပန်ကြပါ
၄၅ ၏။— ညှိုးနွမ်းသည်ဖြစ်၍၊ မိမိတို့ ရဲအရပ်ထဲက
တုန်လှုပ်လျက် ထွက်ကြပါ၏။
၄၆ ထာဝရဘုရားသည် အသက်ရှင်တော်မူသည်
ဖြစ်၍၊ ငါ၏ကျောက်၌ မင်္ဂလာရှိပါစေသတည်း။
ငါ့ကို ကယ်တင် တော်မူသော ဘုရား သခင်၌ ချီး
၄၇ မွမ်းခြင်းရှိပါစေသတည်း။— ငါ့ထက်၌ တရား
စီရင် ၍၊ လူစု တို့ကို ငါ့အောက်မှာ နှိမ့်ချ
၄၈ သောသူကား ဘုရားသခင်ပေတည်း။— ရန်သူတို့
လက်မှ ငါ့ကို ကယ်နှုတ်တော်မူ၏။ အကျွန်ုပ်တ
ဘက်၌ ထသောသူတို့ အပေါ်သို့ ကိုယ်တော်သည်
အကျွန်ုပ်ကို ချီးမြှောက်တင်၍၊ လုယူဖျက်ဆီးတတ်
၄၉ သော သူ၏ လက်မှ ကယ်နှုတ်တော် မူ၏။— ထို
ကြောင့် အိုထာဝရ ဘုရား၊ အကျွန်ုပ်သည် တ
ပါးအမျိုးသားတို့တွင် ကျေးဇူးတော်ကို ချီးမွမ်း
၍၊ နာမတော်ကို ထောမနာ သီချင်းဆိုပါမည်။—
၅၀ ဘုရားသခင်သည် မိမိခန့်ထားသော မင်းကြီးကို
အထူး ထမြှင့် ကယ်တင် တော်မူ၏။ ဘိသိက်
တော်ကို ခံရ သော ဒါဝိဒ်မှစ၍၊ အမျိုး အနွယ်
အား၊ ကာလအစဉ်အဆက်ကရုဏာကျေးဇူး
ကိုပြုတော်မူ၏။

၁၉

၁ မိုဃ်းကောင်းကင်သည် ဘုရားသခင်၏ဘုန်း
အသရေ တော်ကို ကြားပြော၍၊ မိုဃ်း မျက်နှာ
ကြက်သည်လက်တော်နှင့်လုပ်သောအရာများ
၂ ကိုပြသ၏။— တနေ့ကိုတနေ့ မြွက်ဆို၍၊ တညဉ့်
၃ ကိုတညဉ့် သွန်သင်၏။— နှုတ်မြွက်ခြင်း၊ စကား
ပြောခြင်းမရှိ။ လူတို့ နှုတ်ထွက်သံကို မကြားရ
၄ သော်လည်း၊— သူတို့၏ အသံ သည် မြေတပြင်လုံး
၌ နှံ့ပြား၍၊ သူတို့၏ စကား သည် မြေကြီး စွန်း
၅ ထိုင်အောင်ရောက်လေ၏။— မိုဃ်းကောင်းကင်
တွင်နေမင်းတဲကို ထားတော်မူသဖြင့်၊ နေသည်
အိပ်ခန်းထဲက ထွက်လာသော မင်္ဂလာဆောင်လု
လင်ကဲ့သို့ဖြစ်၍၊ ခွန်အားကြီးသောသူကဲ့သို့ မိမိ
သွားရာလမ်းသို့ လိုက်ပြေးမည်ဟု၊ ဝမ်းမြောက်
၆ လျက်— မိုဃ်းကောင်းကင်တစွန်းမှ ထွက်လာ၍၊
တစွန်းတိုင်အောင် လှည့်ပတ်သောအားဖြင့်၊ သူ
၏အပူအရှိန်မှ ကွယ်လွှတ်သော အရာ တစုံတခု
မျှမရှိ။
၇ ထာဝရ ဘုရား၏ တရား တော် သည် စုံလင်
သည်ဖြစ်၍၊ စိတ်ဝိညာဉ်ကို ပြုပြင်တတ်၏။ ထာ
ဝရဘုရား၏ သက်သေခံတော်မူချက်သည် ဟုတ်
မှန်သည်ဖြစ်၍၊ မလိမ္မာသော သူတို့ကို လိမ္မာစေ
၈ တတ်၏။— ထာဝရ ဘုရား ၏ နည်း ဥပဒေ သတို့
သည်ဖြောင့်မတ်သည်ဖြစ်၍၊ စိတ်နှလုံးကို ရွှင်
လန်းစေတတ်၏။ ထာဝရဘုရား၏ ပညတ်တော်
သည်စင်ကြယ်သည်ဖြစ်၍၊ မျက်စိကိုရှင်းလင်း
၉ စေတတ်၏။— ထာဝရဘုရားကို ကြောက်ရွံ့ ခြင်း
တရားသည် သန့်ရှင်း သည် ဖြစ်၍၊ ကာလအ
စဉ်အမြဲ တည်၏။ ထာဝရ ဘုရား၏ စီရင်တော်
မူချက်တို့သည် သစ္စာတရားနှင့် ညီ၍၊ တညီတ
၁၀ ညွတ် တည်း ဖြောင့် မတ်ကြ၏။— ရွှေထက် မက၊
များစွာသော ရွှေစင်ထက် နှစ်သက်ဖွယ် ဖြစ်၍၊
ပျားရည် ထက် မက၊ ပျားလပို့ထက် ချိုကြ ၏။—
၁၁ တရားတော် အားဖြင့် ကိုယ်တော်၏ ကျွန် သည်
သတိရ၍၊ တရားစောင့်ခြင်း အကျိုးသည် ကြီး
ဖွာပါ၏။
၁၂ မိမိမှား ယွင်း ခြင်းကို အဘယ် သူသည် နား
လည် နိုင်သနည်း။ မထင်ရှားသော ဒုစရိုက်အ
၁၃ ပြစ်နှင့်အကျွန်ုပ်ကိုကင်းစင်စေ၍၊ ရဲရင့်သောဒုစ
ရိုက်ကို လည်း ကိုယ် တော်၏ ကျွန်သည် မပြုရ
မည်အကြောင်း၊ ဆီးတားတော်မူပါ။ ဒုစရိုက်အ
ပြစ်သည် အကျွန်ုပ်ကို အစိုးမရပါစေနှင့်။ ထိုသို့
သောအားဖြင့်အကျွန်ုပ်သည် ဖြောင့်မတ်ခြင်းရှိ
၍၊ ကြီးစွာသောပြစ်မှားခြင်းနှင့် ကင်းလွတ်ပါ
၁၄ လိမ့်မည်။— အကျွန်ုပ် ပြောသော စကားနှင့် စိတ်
နှလုံး ၏ အကြံ အစည် သည် ရှေ့ တော်၌ နှစ်
သက်ဖွယ်ဖြစ်ပါစေသော၊ အိုထာဝရဘုရား၊ အ
ကျွန်ုပ်၏ကျောက်၊ အကျွန်ုပ်ကို ရွေးနှုတ်တော်မူ
သောဘုရား။

၂၀

၁ ဘေးအန္တရာယ်ရောက်သောကာလ၌၊ ထာဝရ
ဘုရားသည် ကိုယ်တော်စကားကို နားထောင်၍၊
ယာကုပ် ၏ ဘုရား သခင် နာမတော် သည် ချီး

၂ ချီးဘတ်တော် မူပါစေသော။ သန့်ရှင်းရာ ဌာန တော် ထဲ က ကူ ညီ၍၊ ဇိ ယုန် တောင် ပေါ်က
၃ ထောက်မပင့်တော်မူပါစေသော။ ကိုယ်တော်၏ ပူဇော်သက္ကာ အလုံးစုံတို့ကိုအောင်းမေ့၍၊ မီးရှို့
၄ သောယဇ်ကိုလက်ခံတော်မူပါစေသော။ ကိုယ်တော်၏စိတ်အလိုရှိသည်အတိုင်း ပေးသနား၍၊ အကြံအစည် တော် ရှိသမျှတို့ကိုပြည့်စုံ စေခြင်း
၅ ငှါပြုတော် မူပါ စေသော။ ကိုယ်တော်၏ ကယ် တင်ခြင်းကြောင့်အကျွန်ုပ် တို့ သည်ဝမ်းမြောက် ၍၊အကျွန်ုပ် တို့ဘုရားသခင်၏အခွင့်နှင့်အလံကို ထူကြလိမ့်မည်။ထာဝရဘုရားသည်ကိုယ်တော် ဆုတောင်းသမျှ အတိုင်း ကျေးဇူး ပြုတော်မူပါ စေသော။
၆ ထာဝရဘုရားပေးတော်မူ၍ ဘိသိတ်ခံသော သူ အား၊ ကယ် တင် တော် မူကြောင်း ကို ငါ သိ၏၊ လက်ျာလက်တော်ကယ်တင်ခြင်း အစွမ်းနှင့်ထို သူ၏ စကားကို သန့်ရှင်းသော ကောင်းကင်ပေါ် မှာနားထောင်တော် မူကြောင်းကိုငါယခုငါ သိ
၇ ၏။- အချို့ သောသူတို့သည်ရထားကိုငှဲ၊ အချို့ တို့သည်မြင်းကိုငှဲ ချီးမွမ်းတတ်ကြ၏။ ငါတို့မူ ကား၊ ငါတို့ဘုရားသခင်တည်းဟူသောထာဝရ
၈ ဘုရား၏နာမတော်ကိုချီးမွမ်းကြလိမ့်မည်။- သူ တို့သည်နှိမ့်ချ၍ထဲလျက် ရှိကြ၏၊ ငါတို့မူကား၊ ထ၍ မတ်တတ်နေကြ၏၊ ထိုထာဝရဘုရား၊ မင်း
၉ ကြီးကို ကယ်တင် တော်မူပါ။- အကျွန်ုပ်တို့ ခေါ် သောအခါနားထောင်တော်မူပါ။

၂၁

၁ ထိုထာဝရဘုရား၊ မင်းကြီးသည် ကိုယ်တော် ၏အစွမ်း သတ္တိကြောင့် ဝမ်းမြောက်၍၊ ကယ် တင်တော် မူခြင်း အား ဖြင့် အလွန် ရွှင် လန်းပါ
၂ ၏။- သူ၏နှုတ်နှင့်ဆုတောင်းသည့်ကိုငြင်းပယ် တော်မမူ၊ သူ၏ စိတ် အလို ရှိသည် အတိုင်း ပေး
၃ သနား တော်မူ ပြီ။- ကောင်း မြတ် သော မင်္ဂလာ တို့ ကို အဦး ပြု၍ ပေးတော် မူပြီ၊ ရွှေစင်သရဖူကို
၄ သူ၏ ခေါင်းပေါ် မှာ တင် တော် မူပြီ။- သူသည် အသက်ကို ဆုတောင်း ၍၊ ကိုယ် တော်သည် အ သက်မကၤ ထာဝရအသက်ကိုပေးသနားတော်မူ
၅ ပြီ။- ကယ် တင်တော် မူခြင်း အား ဖြင့် သူ သည် ဘုန်းကြီး၍၊ လက်တော်မှဂုဏ် အသရေနှင့်တန်
၆ ခိုးအာနုဘော်ကိုခံရပါ၏။- ကိုယ်တော်သည် သူ ကိုထာဝရ မင်္ဂလာ အရာ၌ ခန့်ထား၍၊ မျက်နှာ တော် အား ဖြင့် အလွန် ဝမ်းမြောက် စေ တော်မူ
၇ ၏။- အကြောင်းမူကား၊ မင်းကြီးသည် ထာဝရ ဘုရား ကို ကိုးစား ၍၊ အမြင့် ဆုံးသော ဘုရား၏ ကရုဏာတော်ကြောင့်တည်ကြည်တတ်ပါ၏။
၈ ကိုယ် တော်၏ လက်သည် ရန်သူ အပေါင်း တို့ ကို တွေ့ ၍၊ ကိုယ်တော်ကို မုန်း သော သူတို့ ကို
၉ လက်ျာ လက်တော်သည် တွေ့တော်မူမည်။- အ မျက်တော် ထွက်သောကာလ၌၊ သူတို့ကိုမီးဖို ကဲ့ သို့ဖြစ် စေတော်မူမည်၊ ထာဝရ ဘုရားသည် အ မျက် တော် အားဖြင့် သူတို့ကို မျို တော် မူ၍၊ မီး
၁၀ သည်လည်းလောင်စားပါလိမ့်မည်။- သူတို့အမျိုး အနွယ်ကို မြေကြီးမှပယ်ရှင်း၍၊ သားမြေး
၁၁ အဆက်တို့ကိုလူမျိုးထဲကဖျက်ဆီးတော်မူမည်။- အ ကြောင်းမူကား၊ ကိုယ်တော်တဖက်၌ မကောင်း သော အ ကြံ ကို ကြံ စည် ၍၊ မ ကောင်း သော ပရိယာယ်ကို ပြုကြပါပြီ။ သို့ရာတွင်၊ အကြံမထ
၁၂ မြောက်ကြပါ။- ထိုကြောင့်သူတို့မျက်နှာတစ်ဖက် ၌လေး မြှား တော်တို့ကို ရွယ်၍၊ သူတို့ကြောကို
၁၃ လှည့်စေတော်မူမည်။- ဖိုထာဝရဘုရား၊ ကိုယ် တော် သည် အစွမ်း တန်ခိုး တော် အား ဖြင့် ချီး မြှောက်ခြင်းရှိတော်မူစေသတည်း။ အကျွန်ုပ်တို့ သည်တန်ခိုးတော်ကိုထောမနာသီချင်းဆိုကြပါ မည်။

၂၂

၁ အကျွန်ုပ် ဘုရား၊ အကျွန်ုပ် ဘုရား၊ အ ဘယ် ကြောင့် အကျွန်ုပ် ကိုစွန့်ပစ်တော်မူသနည်း။ အ ကျွန်ုပ်ကို မကယ် တင်ဘဲ၊ အကျွန်ုပ်အော် ဟစ် သောစကားကိုနားမထောင်ဘဲ၊ အဘယ်ကြောင့်
၂ အဝေးမှာနေတော်မူသနည်း။- အကျွန်ုပ်ဘုရား နေ့ အခါ အကျွန်ုပ်အော်ဟစ်သော်လည်း၊ ကိုယ် တော်သည် နားမထောင်ပါ၊ ညဉ့် အခါ အော် ဟစ်သော်လည်းသက်သာခြင်းသို့မရောက်ပါ။-
၃ ကိုယ်တော်မူကား၊ ဣသရေလအမျိုးသားတို့ချီး မွမ်းရာ၌၊ ကျိန်းဝပ်လျက်သန့်ရှင်းခြင်းရှိတော်မူ
၄ ၏။- အကျွန်ုပ်တို့ ဘိုးဘေးတို့သည် ကိုယ်တော် ကိုကိုးစားကြပါ၏၊ကိုးစားကြသည်တွင်၊ကိုယ်
၅ တော်သည် ကယ်တင် တော် မူ၏။- သူတို့သည် ကိုယ် တော်ကို အော်ဟစ်၍၊ ကယ် တင်ခြင်းသို့ ရောက်ကြပါ၏၊ ကိုယ်တော်ကိုကိုးစား၍၊ ရှက် ကြောက်ခြင်းနှင့်ကင်းလွတ်ကြပါ၏။
၆ အကျွန်ုပ်မူကား၊ လူမဟုတ်၊ ပိုးကောင်မျှသာ ဖြစ်ပါ၏၊ လူများကဲ့ရဲ့ စရာ၊ လူစုအရှုတ်ခွဲ စရာဖြစ်
၇ ဖြစ်ပါ၏။- အကျွန်ုပ်ကိုမြင်သမျှသောသူတို့သည်

ဖျက်ရယ်ပြုခြင်း၊ နှုတ်ခမ်းမြဲခြင်း၊ ခေါင်းညှိတ်
၈ ခြင်းကိုပြုကြပါ၏။— သူသည် ထာဝရဘုရားကို
ကိုးစားပြီ။ သူကို နှုတ်တော်မူပါလေစေ။ သူ့ကိုအ
လိုတော်ရှိလျှင် ယခုပင်ကယ်တင်တော်မူပါလေ
၉ စေဟုဆိုကြပါ၏။— သို့သော်လည်း၊ ကိုယ်တော်
သည် အကျွန်ုပ်ကို အမိဝမ်းထဲကထုတ်သူဖြစ်၍၊ နို့နို့
သည်ကာလ၌ မြဲမြံခြင်း အကြောင်း ကို ပယ်
၁၀ ရှင်းတော်မူ၏။— အကျွန်ုပ်သည် ဖွားကတည်းက
ပင် ထံတော်သို့ ရောက်ပါ၏။ အမိဝမ်းထဲမှစ
၍ကိုယ်တော်သည်၊ အကျွန်ုပ်၏ဘုရားသခင်ဖြစ်
၁၁ တော်မူပါပြီ။— အကျွန်ုပ်နှင့် ဝေးဝေးနေတော်မ
မူပါနှင့်။ ဘေးအန္တရာယ်ရောက်လုနီးပါပြီ။ မစ
၁၂ သောသူမရှိပါ။— နွားသိုးဥသဘတို့သည် အ
ကျွန်ုပ်ကိုဝိုင်း၍၊ အားကြီးသော ဗာရှန်ဥသဘ
၁၃ တို့သည်ဝန်းရံလျက်နေကြပါ၏။— ကိုက်ဖြတ်၍
ဟောက်တတ်သော ခြင်္သေ့ကဲ့သို့ အကျွန်ုပ်ကို
၁၄ ပါးစပ်ဟကြပါ၏။— အကျွန်ုပ်သည်ရေကဲ့သို့သွန်
ခြင်းကိုခံရ၍၊ အရိုးအဆစ်ရှိသမျှတို့သည်ပြုတ်
ကြပါ၏။ အကျွန်ုပ်နှလုံးသည် ဖယောင်းကဲ့သို့
၁၅ ဖြစ်၍၊ ရင်ထဲမှာ အရည်ကျိုလျက် ရှိပါ၏။— အ
ကျွန်ုပ်ခွန်အားသည်အိုးခြမ်းကဲ့သို့ခန်းခြောက်
၍၊ လျှာသည်း ပါး ရိုး၌ ကပ်လျက် ရှိပါ၏။ အ
ကျွန်ုပ်ကို သေမြေ တိုင်စေအောင် ချတော် မူပါပြီ။—
၁၆ ခွေးတို့သည်အကျွန်ုပ်ကိုဝိုင်းလျက်၊ စုဝေးသော
လူဆိုးတို့သည် ဝန်းရံလျက် နေ၍၊ အကျွန်ုပ်၏
၁၇ လက်ခြေတို့ကိုထိုးဖောက်ကြပါပြီ။— ကိုယ်အရိုး
ရှိသမျှတို့ကို အကျွန်ုပ် ရေတွက် နိုင်ပါ၏။ သူတို့
သည်အကျွန်ုပ်ကို ကြည့်မြင်၍ အားရလျက်နေ
၁၈ ကြပါ၏။— အကျွန်ုပ် အဝတ်ကို အချင်းချင်း ဝေ
ဖန်၍၊ အကျွန်ုပ်အင်္ကျီကိုစာရေးတံ ချကြပါ၏။—
၁၉ ထိုထာဝရဘုရား၊ အကျွန်ုပ်နှင့်ဝေးဝေးနေတော်
မမူပါနှင့်။ အကျွန်ုပ်၏ခွန်အားဗလ၊ အကျွန်ုပ်
ကိုမစခြင်းငှါအလျင်အမြန် ကြွလာ တော်မူပါ၊—
၂၀ အကျွန်ုပ် အသက်ကို ထားဘေးမှရင်၊ အကျွန်ုပ်
အချစ်ဆုံးကိုခွေး ထက်မှရင်ကယ် နှုတ်တော်မူ
၂၁ ပါ။— ခြင်္သေ့ခံတွင်းမှအကျွန်ုပ်ကိုကယ်တင်၍၊
ကြံ့ဦးချိုထဲမှာ အကျွန်ုပ်ခေါ်သော အသံကိုနား
၂၂ ထောင် တော်မူ ပါ။— အကျွန်ုပ် သည် သိ တင်း
တော်ကို ညီအစ်ကိုတို့အား ကြားပြောပါမည်။
ပရိသတ်အလယ်မှာ ကိုယ်တော်ကိုချီးမွမ်းပါ
မည်။
၂၃ ထာဝရဘုရားကို ကြောက်ရွံ့သော အချင်း
တို့၊ ချီးမွမ်းခြင်းကို ပြုကြလော့။ ယာကုပ်အမျိုး
အပေါင်းတို့၊ ဂုဏ်ကျေးဇူးတော်ကို ဖော်ပြကြ
လော့။ ဣသရေလ အမျိုး အပေါင်း တို့၊ ကိုယ်
၂၄ တော်ကို ကြောက်ရွံ့ကြ လော့။— အကြောင်းမူ
ကား၊ နှိမ့်ချလျက်ရှိသောသူ၏ နှိမ့်ချသောအဖြစ်
ကိုမထီမဲ့မြင် ပြုတော် မူသည် မဟုတ်။ မျက်နှာ
တော်ကိုမသွဲ့။ အော်ဟစ်သောအခါ နားထောင်
၂၅ တော်မူပြီ။— အကျွန်ုပ်သည် မဟာပရိသတ်အ
လယ်မှာ ကိုယ်တော်ကိုချီးမွမ်း၍၊ ကိုယ်တော်
ကို ကြောက်ရွံ့သော သူတို့ရှေ့မှာ၊ သစ္စာဂတိ
ထားသည်အတိုင်း၊ သစ္စာဝတ်ကိုဖြေပါမည်။—
၂၆ နှိမ့်ချလျက် ရှိသော သူတို့ သည် ဝစွာစားရကြ
လိမ့်မည်။ ထာဝရဘုရားကိုရှာသောသူတို့သည်
ချီးမွမ်းကြလိမ့်မည်။ သင်တို့စိတ်နှလုံးသည်
၂၇ အစဉ်အမြဲအားဖြည့်ရလိမ့်မည်။— မြေကြီးစွန်း
ရှိသမျှတို့သည်သတိရ၍၊ ထာဝရဘုရားထံတော်
သို့ပြောင်းလဲကြလိမ့်မည်။ လူအမျိုးအနွယ်အ
ပေါင်း တို့သည် ရှေ့တော်၌ ကိုးကွယ် ကြလိမ့်
၂၈ မည်။— အကြောင်းမူကား၊ ထာဝရဘုရားသည်
စိုးစံပိုင် တော်မူ၏။ လူမျိုးတို့ကို မင်းပြု တော်မူ
၂၉ ၏။— မြေကြီးပေါ်မှာကြွယ်ဝသောသူအပေါင်းတို့
သည် စား၍ ကိုးကွယ် ကြလိမ့်မည်။ ကိုယ် အ
သက်ကိုမစောင့်နိုင်၊ မြေမှုန့်သို့ ဆင်းရသောသူ
အပေါင်း တို့သည်လည်း၊ ရှေ့တော်၌ ဦးညွတ်ပြပ်
၃၀ ဝပ်တွားကြ လိမ့် မည်။— သူတို့ အမျိုး အနွယ်
သည်လည်း ဝတ်တော်ကိုပြုသဖြင့်၊ လူအစဉ်
အဆက်တို့သည်ထာဝရဘုရား၏ သိတင်းတော်
၃၁ ကိုကြားရကြလိမ့်မည်။— ဤသို့စီရင်တော်မူပြီဟု
သူတို့သည် ပေါ်လာ၍၊ တရားသော အမှုတော်
ကိုဖွားသောလူမျိုးအားဖော်ပြရကြလိမ့်မည်။

၂၃

၁ ထာဝရဘုရားသည် ငါ၏သိုးထိန်း ဖြစ်တော်
၂ မူ၏။ ငါသည် ဆင်းရဲ မခံ ရ။— မြိမ်းလန်းသော
ကျက်စားရာအရပ်၌ငါကိုအိပ်စေတော်မူ၏။ သာ
၃ ယာသော မြစ် နား သို့ ထမ်းပြ တော် မူ၏။— င
ပိညာဉ်ကိုအားဖြည့်၍၊ နာမတော်အဖို့အလိုငှါ
၄ တရား လမ်း ထဲ၌ သွေး ဆောင် တော် မူ၏။— အ
ကယ်၍သေမင်း၏ အရိပ်လွှမ်းမိုးသော ချိုင့်ထဲ
သို့ရှောက်သွားရသော်လည်း၊ ဘေးအန္တရာယ်
ကို မကြောက် ပါ။ အကြောင်း မူ ကား၊ ကိုယ်
တော် သည် အကျွန်ုပ် နှင့် အတူ ရှိ တော် မူသည်
ဖြစ်၍၊ လှံတံ တော်နှင့် တောင်ဝေး တော် သည်

၅ အကျွန်ုပ်ကိုချမ်းသာစေပါ၏။-အကျွန်ုပ်၏ရန်သူ
တို့ရှေ့မှာအကျွန်ုပ်အဖို့ စားပွဲကို ခင်းတော်မူ၏။
အကျွန်ုပ် ခေါင်းကို ဆီနှင့် လိမ်း တော် မူ၏။ အ
၆ ကျွန်ုပ် ခွက်ဖလား သည် လျှံလျက် ရှိပါ၏။- အ
ကယ်စင်စစ်အကျွန်ုပ်သည်ကျေးဇူးနှင့်ကရုဏာ
ကို တသက်လုံး ခံစား၍၊ ထာဝရ ဘုရား၏ အိမ်
တော်မှာအစဉ်အမြဲနေရပါလိမ့်မည်။

၂၄

၁ ထာဝရဘုရား သည် မြေကြီး နှင့် မြေကြီးတန်
ဆာကိုဂုင်၊ လောက ဓာတ် နှင့် လောက သားတို့
၂ ကိုဂုင်ပိုင်တော်မူ၏။- အကြောင်း မူကား၊ ထိုနေ
ရာကို သမုဒ္ဒရာ ပေါ်မှာတည်၍၊ ရေရှားပေါ်မှာ
မြဲမြဲစေတော်မူပြီ။
၃ ထာဝရဘု ရား၏တောင်တော်ပေါ်သို့အဘယ်
သူသည် တက်ရ မည် နည်း။ သန့် ရှင်း ရာ ဌာန
တော်၌အဘယ်သူသည်ရပ်နေရမည်နည်း ဟုမူ
၄ ကား၊- သန့်ရှင်းသော လက် နှင့် ဖြူစင်သော နှစ်
လုံးရှိသောသူ၊ မုသာကိုမမြဲမထည်းကပ်၊ မမှန်
၅ သော ကျိန် ဆိုခြင်းကို မပြုသော သူသည်- ထာ
ဝရဘုရား၏ ထက်တော်မှ ကောင်းကြီးမင်္ဂလာ
ကိုဂုင်၊ ကယ်တင် တော် မူသော ဘုရား သခင်၏
လက်တော်မှ ဖြောင့် မတ်ခြင်း တရားကို ဂုင် ခံရ
၆ လိမ့် မည်။- ထို သူ သည် ထာဝရ ဘုရား ကို ရှာ
သောအမျိုး၊ မျက်နှာတော်ကိုရှာသောယာကုပ်
အမျိုးဖြစ်သတည်း။
၇ အချင်းတံခါးတို့၊ တံခါးမုတ်ကို ကြွ လိုက်ကြ။
အချင်းထာဝရတံခါးတို့၊ ကိုယ်ကို ကြွလိုက်ကြ။
၈ ဘုန်းကြီးသောရှင်ဘုရင်ဝင်တော်မူမည်။-ဘုန်း
ကြီး သော ရှင်ဘုရင်ကား၊ အဘယ်သူ နည်း။ အ
စွမ်း တန်ခိုး နှင့် ပြည့် စုံ တော် မူ သော ထာဝရ
ဘုရား၊ စစ်တိုက်ခြင်းငှါတန်ခိုးကြီးတော်မူသော
၉ ထာဝရဘုရားပေတည်း။- အချင်းတံခါးတို့၊ တံ
ခါးမုတ်ကို ကြွ လိုက်ကြ။ အချင်းထာဝရတံခါး
တို့၊ ကိုယ်ကို ကြွလိုက်ကြ၊ ဘုန်းကြီးသော ရှင်
၁၀ ဘုရင်ဝင်တော်မူမည်။- ဘုန်းကြီးသောရှင်ဘုရင်
ကား၊ အဘယ်သူနည်း။ ကောင်းကင် ဗိုလ်ခြေအ
ရှင် ထာဝရ ဘုရား ပေ တည်း။ ထို ဘုရား သည်
ဘုန်းကြီးသောရှင်ဘုရင်ဖြစ်တော်မူသတည်း။

၂၅

၁ ဖိုထာဝရဘုရား၊ ကိုယ်တော်ကိုအကျွန်ုပ်တ
၂ သ လျှက် နေ ပါ ၏။- အ ကျွန်ုပ် ၏ ဘုရား သခင်၊
ကိုယ်တော်ကို အကျွန်ုပ် ခိုလှုံ သည်ဖြစ်၍၊ ရှက်
ကြောက်ခြင်းသို့ မရောက်ပါစေနှင့်၊ အကျွန်ုပ်၏
ရန်သူတို့သည် အကျွန်ုပ်ကိုအောင်၍ အောင်ပွဲ
၃ ကိုမခံပါစေနှင့်။- အကယ်စင်စစ် ကိုယ်တော်ကို
မျှော်လင့် သော သူတို့သည် ရှက် ကြောက်ခြင်း
သို့မရောက်ရကြပါ။ အကြောင်းမရှိဘဲသစ္စာကို
ဖျက် သော သူ တို့ သည် ရှက် ကြောက် ခြင်း သို့
၄ ရောက် ရကြပါလိမ့် မည်။- ဖိုထာဝရ ဘုရား၊
ကိုယ်တော်၏ လမ်းတို့ကိုအကျွန်ုပ်အား ပြညွှန်
၅ ၍၊ ခရီးတော်တို့ကို သွန်သင် တော်မူပါ။-ကိုယ်
တော်၏ သစ္စာတရားကိုပြ၍၊ အကျွန်ုပ်ကို သွန်
သင်တော်မူပါ။ အကြောင်းမူကား၊ ကိုယ်တော်
သည်အကျွန်ုပ်ကို ကယ်တင်သော ဘုရားသခင်
ဖြစ်တော် မူ၏။ ကိုယ်တော်ကို အစဉ် မျှော်လင့်
၆ လျက်နေပါ၏။-ဖိုထာဝရဘုရား၊ရှေးကာလမှစ
၍၊ ပြတော်မူသောကရုဏာနှင့်မေတ္တာသဘော
၇ ကို အောက်မေ့တော် မူပါ။- အကျွန်ုပ်သည် အ
သက်အရွယ်ငယ်စဉ်၊ပြစ်မှားမိသောအပြစ်တို့
ကို အောက်မေ့ တော်မ မူပါ နှင့်။ ကောင်း မြတ်
တော် မူသည်ဖြစ်၍၊ ကရုဏာတော် ရှိသည်အ
တိုင်း၊ အကျွန်ုပ်ကို အောက်မေ့တော်မူပါ၊ ထာ
ဝရဘုရား။
၈ ထာဝရ ဘုရားသည် ကောင်း သော သဘော၊
ဖြောင့်မတ် သော သ ဘော နှင့် ပြည့် စုံ တော် မူ
သည် ဖြစ် ၍၊ အပြစ် ရှိ သော သူ တို့ကို လမ်း ပြ
၉ တော်မူ၏။- နှိမ့်ချလျက်ရှိသော သူတို့ကို တရား
လမ်း၌ သွေး ဆောင် တော် မူ၏။ နှိမ့်ချလျက် ရှိ
သော သူတို့အား ခရီးတော်တို့ကို သွန်သင်တော်
၁၀ မူ၏။- ထာဝရ ဘုရား ၏ လမ်း ခရီး ရှိ သမျှ တို့
သည် ပ ဋိ ညာဉ် တရား တော် နှင့် သက် သေခံ
တော် မူ ချက် တို့ ကို စောင့် ရှောက် သော သူ တို့
၁၁ အား၊ ကရုဏာနှင့်သစ္စာ ဖြစ်ကြသတည်း။- ဖို
ထာဝရဘုရား၊ အကျွန်ုပ်၌ အပြစ်များစွာသော
ကြောင့် နာမ တော် ကို ထောက်၍ ချမ်း သာ ပေး
တော်မူပါ။
၁၂ အကြင်သူသည်ထာဝရဘုရားကိုကြောက်ရွံ့
တတ်၏၊ ထိုသူအားနှစ်သက်ဖွယ်သောလမ်းကို
၁၃ ပြညွှန်တော် မူမည်။- ထို သူ သည် ကိုယ် တိုင်
ကောင်း စွန်စွာကျိန်းဝပ်၍၊ သူ၏အမျိုးအနွယ်
သည်လည်းပြည်တော်ကို အမွေခံရလိမ့်မည်။-
၁၄ ထာဝရ ဘုရားကို ကြောက်ရွံ့သော သူတို့သည်
ကိုယ်တော် မြတ်နှင့် မိဿဟာယ ဖွဲ့ရသောအ
ခွင့်နှင့်ပဋိညာဉ်တရားတော်ကိုသိရသောအခွင့်

၁၅ ရှိကြ၏။– အကျွန်ုပ်သည် ထာဝရဘုရားကို အ
စဉ်မျှော်ထင့်လျက်နေပါ၏။ အကြောင်းမူကား၊
အကျွန်ုပ်၏ခြေကိုကျော့ကွင်းထဲက နှုတ်ယူတော်
၁၆ မူမည်။– အကျွန်ုပ်သည်တယောက်တည်းကျန်
ကြွင်း၍၊ နှိမ့်ချခြင်းကို ခံရသော ကြောင့်၊ အ
ကျွန်ုပ် ကို မျက်နှာ ပြု၍ ကယ်မ သနားတော်မူ
၁၇ ပါ။– အကျွန်ုပ်စိတ်နှစ်လုံးဆင်းရဲသည်ကိုချမ်း
သာ ပေး၍၊ အမှု ရှား ထဲက ကယ် နှုတ် တော်မူ
၁၈ ပါ။– အကျွန်ုပ်နှိမ့်ချခြင်းနှင့်ပူပန်ခြင်းကို ကြည့်
ရှု၍၊ အ ကျွန်ုပ် အပြစ် ရှိသမျှ တို့ကိုလွှတ် တော်
၁၉ မူပါ။– အ ကျွန်ုပ် ၏ ရန် သူ တို့ သည် များ ပြား
ကြောင်း နှင့်၊ အ ကျွန်ုပ် ကို ပြင်း စွာ ရုန်း ထား
၂၀ ကြောင်းကို ဆင်ခြင် တော် မူပါ။– အ ကျွန်ုပ် အ
သက်ကိုစောင့်ရှောက်၍၊ အကျွန်ုပ်ကိုကယ်တင်
တော်မူပါ။ အကျွန်ုပ်သည် ကိုယ်တော်ကိုမှီဝဲ
ပါသည် ဖြစ်၍၊ ရှက်ကြောက် ခြင်းသို့ မရောက်
၂၁ ပါစေနှင့်။– ကိုယ်တော်ကိုမျှော်ထင့်လျက်နေပါ
သည်ဖြစ်၍၊ အပြစ်ကင်းခြင်းနှင့်သတောဖြောင့်
ခြင်းသည် အ ကျွန်ုပ် ကို စောင့် ရှောက် ပါစေ
၂၂ သော။– ဘုရားသခင်၊ ဣသရေလ အမျိုးကို
ခပ် သိမ်း သော ဒုက္ခ အ ထဲ က ရွေး နှုတ် တော်
မူပါ။

၂၆

၁ အိုထာဝရဘုရား၊ အကျွန်ုပ်သည်ဖြောင့်မတ်
ခြင်း ထမ်း သို့ လိုက် သော ကြောင့်၊ အ ကျွန်ုပ်
ထက်၌ တရား စီရင်တော်မူပါ။ အကျွန်ုပ်သည်
ထာဝရဘုရားကိုမှီဝဲ၍၊ ရွေ့လျော့ခြင်းနှင့်ကင်း
၂ လွတ်ပါလိမ့်မည်။–အိုထာဝရဘုရား၊ အကျွန်ုပ်
ကို စစ် ဆေး စုံစမ်း၍၊ နှစ်လုံး ကျောက် ကပ် ကို
၃ ဆေးကြောတော်မူပါ။– အကျွန်ုပ်သည် မေတ္တာ
ကျေးဇူးတော်ကိုမျက်မှောက်ပြု၍၊သစ္စာတရား
၄ တော်နှင့်အညီကျင့်ပါ၏။–လျှပ်ပေါ်သောလူတို့
နှင့်အတူ မထိုင်ပါ။ လှို့ဝှက် သော လူစု ထဲသို့မ
၅ ဝင်ပါ။–မတရားသောသူတို့၏ စည်းဝေးခြင်းကို
ရုန်းပါ၏။ ဆိုးသွမ်းသောသူတို့နှင့်အတူမထိုင်
၆ ပါ။– ကျေးဇူး တော်ကို ချီးမြှောက်သော အသံ
၇ နှင့်မြွက်ဆို၍၊ အံ့ဩဖွယ်သောအမှုတော်အ
လုံး စုံတို့ကို ကြားပြော ခြင်းငှါ၊ အကျွန်ုပ်သည်
ကိုယ်ထက်ကိုအပြစ်ကင်းခြင်းနှင့်ဆေး၍၊ယဇ်
ပလ္လင်တော်ကိုဝန်းရံလျက်နေပါသည်၊ ထာဝရ
ဘုရား။
၈ အိုထာဝရဘုရား၊ဖိမ်တော်သည်ဖိမ်တော်
တည်ရာကိုင်၊ ဘုန်းတော်သင်ရှားသောအရပ်
၉ ရွာနကို ငင်အကျွန်ုပ် နှစ်သက် ပါ ၏။– ဖြစ်မှား
သောသူတို့နှင့်အတူ အကျွန်ုပ်၏ ဝိညာဉ်ကိုင်၊
လူ အ သက် ကို သတ် သော သူ တို့နှင့် အတူ အ
ကျွန်ုပ်အသက်ကိုင်ချုပ်ထားတော်မမူပါနှင့်။–
၁၀ သူတို့လက်သည်မကောင်းသောအကြံအစည်၌
ကျင်လည်၍၊ သူတို့လက်ျာလက်သည်လည်းတံ
၁၁ မိုးနှင့် ပြည့်ဝ ပါ၏။– အကျွန်ုပ် မူကား၊ ဖြောင့်
မတ်ခြင်း ထမ်းသို့ လိုက် ပါ၏။ အကျွန်ုပ်ကို ရွေး
၁၂ နှုတ်၍ကယ်မသနားတော်မူပါ။–အကျွန်ုပ်သည်
ညီညွတ်သော အရပ်၌နေရာကျ၍၊ ပရိသတ်အ
ထယ်မှာထာဝရဘုရားကို ကောင်းကြီး ပေးပါ
မည်။

၂၇

၁ ထာဝရဘုရားသည်ငါ၏အလင်း၊ ငါ့ကိုကယ်
တင်သောအရှင်ဖြစ်တော်မူ၏။ငါသည်အဘယ်
သူကို ကြောက်ရအံ့နည်း။ ထာဝရဘုရားသည်
ငါ၏အသက်မှီတွယ်ရာဖြစ်တော်မူ၏။ ငါသည်အ
၂ ဘယ်သူကိုကြောက်လန့်ရအံ့နည်း။–ငါ့ကိုအပြီး
ထားသော ရန်သူ လူဆိုးတို့သည် ငါ့အသား ကို
ကိုက်စားမည်ဟုလာကြသောအခါ၊ခြေတိုက်မိ
၃ ၍လဲကြ၏။– ငါ့တဘက်၌တပ်ချကြသော်လည်း၊
ငါ့နှစ်လုံးမကြောက်တတ်။ စစ်ရှိ၍လာကြသော်
လည်း၊ ထိုအမှုတွင်ပင်တည်ကြည်သော စိတ်ရှိ
လိမ့်မည်။
၄ ထာ ဝ ရ ဘုရား ၏ တင့် တယ် ခြင်း အ သ ရေ
တော်ကိုဖူးမြင်၍၊မိတ်မှန်တော်၌ မွေ့လျော်ခြင်း
အလိုငှါ၊ထာဝရဘုရား၏အိမ်တော်မှာတသက်
လုံးနေရမည် အကြောင်းတည်း ဟူသောအခွင့်
တခုကိုထာဝရဘုရား၌ ငါဆုတောင်းပြီ။ ထိုအ
၅ ခွင့်ကို ရှာရဦးမည်။– အကြောင်းမူကား၊ ဘေး
အန္တရာယ် ရောက် သည် ကာလ၊ တဲတော် တွင်
ငါ့ကိုကွယ်ကာတော်မူမည်။မိတ်မှန်တော်အတွင်း
အရပ်၌၊ ငါ့ကိုဝှက် ထား တော် မူမည်။ ကျောက်
၆ ပေါ်မှာလည်းငါ့ကိုတင်ထားတော်မူမည်။– ယခု
ပင်ငပတ်ထည်၌ ရှိသော ရန်သူတို့၏ အပေါ်သို့
ငါ၏ ဦးချောင်း ကို ချီး မြှောက် တော်မူ ၏။ ထို
ကြောင့် မိတ်မှန် တော်မှာ တံပိုး မှုတ်ခြင်း နှင့်
တကွ ယဇ်ပူဇော်ပါမည်။ သီခြင်း ဆိုပါမည်။
ထာဝရဘုရားကိုထောမနာသီခြင်းဆိုပါမည်။
၇ အိုထာဝရ ဘုရား၊ အကျွန်ုပ် ဟော်ဟစ်သော
အသံ ကို နား ထောင် တော် မူပါ။ အကျွန်ုပ် ကို

၈ သနားခြင်းငှာ ထူးတော်မူပါ။ ငါ၏မျက်နှာကိုရှာကြ
လော့ ဟူသော အမိန့်တော်ကို ရွေ့တော်၌ အ
ကျွန်ုပ်သည် အောက်မေ့လျက်၊ ဆို ထာဝရ ဘုရား၊
၉ ကိုယ်တော်၏မျက်နှာကိုရှာပါမည်။ အကျွန်ုပ်
ကိုမျက်နှာ လွှဲတော် မမူပါနှင့်။ အမျက်ထွက်၍
ကိုယ်တော်၏ကျွန်ကို ပယ်တော် မမူပါနှင့်။ အ
ကျွန်ုပ်ကို ကယ်တင်တော်မူသောဘုရား၊ ကိုယ်
တော်သည်အကျွန်ုပ်ကို မစတော်မူဘူးသည်ဖြစ်
၁၀ ၍၊ အကျွန်ုပ်ကိုစွန့်ပြစ်တော်မမူပါနှင့်။ ကိုယ်မိ
ဘတို့သည်အကျွန်ုပ်ကိုစွန့်သော်လည်း၊ ထာဝရ
၁၁ ဘုရားသည်အကျွန်ုပ်ကို ပြုစုတော်မူမည်။ အို
ထာဝရဘုရား၊ ကိုယ်တော်၏ လမ်းကိုအကျွန်ုပ်
အား ပြသ သွန်သင်တော်မူပါ။ အကျွန်ုပ်၏ ရန်
သူတို့ကြောင့်၊ ဖြောင့်သော လမ်းထဲ၌ အကျွန်ုပ်
၁၂ ကို ပို့ဆောင်တော်မူပါ။ မမှန်သော သက်သေ
ကို ခံသောသူတို့နှင့် ညှဉ်းဆဲခြင်းငှါ၊ ပြင်းစွာ
အသက် ရှူသော သူတို့သည် အကျွန်ုပ် တဖက်၌
ထကြသည်ဖြစ်၍၊ ရန်သူတို့ အလိုသို့အကျွန်ုပ်
၁၃ ကို အပ်နှံ တော်မမူပါနှင့်။ အကယ်စင်စစ် အ
သက်ရှင်သောသူတို့၏နေရာတွင်၊ ထာဝရဘုရား
၏ကျေးဇူးတော်ကိုငါတွေ့မြင်မည်ဟုယုံမှတ်၍
၁၄ ထမ်းခြင်းရှိ၏။ ထာဝရ ဘုရားကို မျှော်ထင့်
လော့၊ အားယူ၍ ရဲရင့်သော စိတ် နှစ်လုံးရှိ
လော့၊ ထာဝရ ဘုရားကို မျှော်ထင့် လျက် နေ
လော့။

၂၈

၁ အကျွန်ုပ်၏ကျောက်ဖြစ်တော်မူသောထာဝရ
ဘုရား၊ ကိုယ်တော်ကို အကျွန်ုပ်အော်ဟစ်ပါ၏။
မထူးဘဲ နေတော်မမူပါနှင့်။ မထူးဘဲ နေတော်မူ
လျှင်၊ အကျွန်ုပ်သည်သင်းချိုင်းတွင်းထဲသို့ဆင်း
၂ သောသူကဲ့သို့ဖြစ်ရပါမည်။ အကျွန်ုပ်သည်သန့်
ရှင်းသော ဗျာဒိတ် ဌာနတော်သို့ လက်ကို မြှောက်၍၊
ကိုယ် တော်ကို အော်ဟစ်သော အခါ၊ အကျွန်ုပ်
တောင်းလျှောက်သောအသံကိုနားထောင်တော်
၃ မူပါ။ ဆိုးညစ်သောသူ ယုတ်မာသော သူ
သော စိတ် နှစ် လုံး ရှိ သည် နှင့်၊ လောက ဝတ်
စကားကို ပြော တတ် သော သူ တည်း ဟူသော၊
ဆိုးယုတ်သော အမှု၊ မတရားသော အမှုကို ပြု
တတ် သော သူ တို့ နှင့် အတူ၊ အကျွန်ုပ်ကို ဆွဲ
၄ ဆောင် တော် မ မူ ပါ နှင့်။ သူတို့ ကျင့်သောအ
ကျင့်ဝတ်ဆိုးယုတ်သည်နှင့်အညီ၊ အကျိုးအ
ပြစ်ကို ဆပ်ပေး တော် မူ ပါ၊ သူတို့ ပြု မူ သည်
အတိုင်းဆပ်ပေး၍၊ အပြစ်နှင့်အလျောက်စီရင်
၅ တော်မူပါ။ သူတို့သည် ထာဝရ ဘုရား၏ အမှု
တော်ကိုင်၊ လက်တော်နှင့်ပြုစုတော်မူရာကို
ငင်မမှတ်ကြသောကြောင့်၊ တည်ဆောက်တော်
မမူ၊ ဖြိုဖျက်တော်မူမည်။
၆ ထာဝရ ဘုရားသည် မင်္ဂလာ ရှိတော် မူစေသ
၇ တည်း။ ငါတောင်းလျှောက်သောအသံကိုနား
ထောင်တော်မူပြီ။ ထာဝရဘုရားသည်ငါ၏ခွန်
အားဖြစ်၊ ငါ၏အကွယ်အကာဖြစ်တော်မူ၏။ ငါ
နှစ်လုံးသည် ထိုဘုရားကိုကိုးစား၍၊ ငါကိုစောင့်
မတော်မူသောကြောင့်၊ ငါ့နှစ်လုံးသည် ရွှင်ထန်း
လျက်ရှိ၏၊ သီချင်းဆိုလျက်ဂုဏ်တော်ကိုငါချီး
၈ မွမ်းမည်။ ထာဝရဘုရားသည် မိမိလူစု၏ ခွန်
အားဖြစ်တော်မူ၏။ အထံတော်၌ ဘိသိက်
ခံသောသူ၏ ကယ်တင်ခြင်း အကြောင်းကို ခိုင်ခံ့
၉ မြဲမြံစေတော်မူ၏။ ကိုယ်တော်၏ လူစုကိုကယ်
တင်၍၊ အမွေတော်ကိုကောင်းကြီး မင်္ဂလာပေး
တော်မူပါ။ သူတို့ကို ထုပ် ထိန်း၍၊ ထာဝရ ချီး
မြှောက်ခြင်းရှိစေတော်မူပါ။

၂၉

၁ အိုဘုရားသခင်သားတို့၊ ထာဝရဘုရားသည်
ဘုန်းအာနုဘော်ကြီးတော်မူသည်ဟုဝန်ခံကြလော့။
၂ ထာဝရဘုရား၏နာမတော်သည်ဘုန်းကြီးတော်
မူသည်ဟု ဝန်ခံလျက်၊ သန့်ရှင်းသော တန်ဆာ
ကိုဆင်၍၊ ထာဝရဘုရားကိုကိုးကွယ်ကြလော့။
၃ ထာဝရဘုရား၏ အသံတော်သည်သမုဒ္ဒရာပေါ်
မှာရှိ တော်မူ၏၊ ဘုန်းကြီးတော် မူသော ဘုရား
သခင်သည်မိုဃ်းခြိမ်းတော်မူ၏၊ ထာဝရဘုရား
၄ သည်များစွာသောရေပေါ်မှာ ရှိတော်မူ၏။ ထာ
ဝရဘုရား၏အသံတော်သည်တန်ခိုးနှင့် ပြည့်စုံ
တော် မူ၏၊ ထာဝရ ဘုရား၏ အသံတော် သည်
၅ ဘုန်းအာနုဘော်နှင့်ပြည့်စုံတော်မူ၏။ ထာဝရ
ဘုရား၏ အသံတော်သည်အာရဇ်ပင်တို့ကိုချိုး
တော်မူ၏၊ အကယ်စင်စစ် ထာဝရဘုရား သည်
၆ လေဗနုန်အာရဇ်တောကိုချိုးတော်မူ၏။ တော
ကို နွားသငယ် ကဲ့သို့၎င်း၊ လေဗနုန် တောနှင့် ရှိ
ရှုန်တောကို ကြံ့သငယ် ကဲ့သို့၎င်း ခုန်စေ တော်မူ
၇ ၏။ ထာဝရဘုရား၏ အသံတော်သည်မီးလျှံကို
၈ ခွဲတော်မူ၏။ ထာဝရဘုရား၏ အသံတော်သည်
တောကို လှုပ်ရှားတော်မူ၏၊ ထာဝရဘုရား
သည်ကာဒေရှတောကို လှုပ်ရှားစေတော်မူ၏။
၉ ထာဝရဘုရား၏အသံတော်သည်သမင်မရယ်မ

ထိုကိုရွေ့ရွှားစေတော်မူ၏၊ တောတန်ဆာထိုကို
ထည်း၊ ပထိဖျင်း တော်မူ၏။ ဗိမာန်တော်၌ ခပ်
သိမ်းသောသူတို့သည် ဘုန်းတော်ကို ချီးမွမ်းကြ
၁၀ ၏။— ထာဝရဘုရားသည် မိုဃ်းသက်ရန်ထိုင်၊
ပေါ်မှာ ထိုင် တော်မူ၏။ အကယ် စင်စစ် ထာဝရ
ဘုရားသည်အစဉ်အမြဲ ရှင်ဘုရင်အရာနှင့်ထိုင်
၁၁ တော်မူ၏။— ထာဝရဘုရားသည်မိမိလူတို့ကို ခိုင်ခံ့
စေတော် မူမည်။ ထာဝရ ဘုရား သည် မိမိလူ တို့
အားငြိမ်ဝပ်ခြင်းကောင်းကြီး မင်္ဂလာကိုပေး
တော်မူမည်။

## ၃၀

ဒါဝိဒ်သည်အိမ်တော်ကိုသန့်ရှင်းစေသောအခါ၊
အသံညီစွာဆိုသောဆာလံ။

၁ အိုထာဝရဘုရား၊ ကိုယ်တော်ကိုအကျွန်ုပ်ချီး
မွမ်းပါမည်၊ အကျွန်ုပ်ကိုဆယ်နှုတ်တော်မူ၏၊
ရန်သူ တို့သည် အကျွန်ုပ် အကြောင်း ကြောင့်၊
၂ ဝမ်းမြောက်ရသောအခွင့်ကိုပေးတော်မမူ။— အို
အကျွန်ုပ်၏ဘုရားသခင်ထာဝရဘုရား၊ အကျွန်ုပ်
သည် ကိုယ်တော်ကို အော်ဟစ်၍၊ ကိုယ်တော်
၃ သည်ချမ်းသာပေးတော်မူ၏။— အိုထာဝရဘုရား
ကိုယ်တော်သည်အကျွန်ုပ်၏ဝိညာဉ်ကိုမရဏာ
နိုင်ငံထဲက နှုတ်ယူ တော် မူပြီ။ သင်္ချိုင်း တွင်း
ထဲသို့ မဆင်း စေဘဲ၊ အကျွန်ုပ်ကို အသက် ချမ်း
၄ သာပေးတော်မူပြီ။— ထာဝရဘုရား၏သန့်ရှင်းသူ
တို့၊ ထာဝရဘုရားကို သောမနာ သီချင်း ဆိုကြ
လော့၊ သန့်ရှင်းသော နာမတော်ကို ချီးမွမ်းကြ
၅ လော့။— အမျက်တော်သည် ခဏထွက်၏။ ကျေး
ဇူးတော်မူကား၊ တသက်လုံးတည်၏။ ညဦးယံ၌
ငိုကြွေးခြင်းသည် လာ၍တည်းခို၏။ နံနက်ယံ၌
ထား၊ သီချင်းဆိုရသောအခွင့်ရှိ၏။
၆ ငါသည်လှုပ်ရှားခြင်းနှင့် အစဉ်ကင်းလွတ်
ထိမ့်မည် ဟု၊ ကောင်းစား သည် အခါ အကျွန်ုပ်
၇ ဆောင်း စေ့ပါ၏။— အိုထာဝရ ဘုရား၊ ကျေး ဇူး
တော်အားဖြင့်သာအကျွန်ုပ်၏ တောင်သည်ခိုင်ခံ့
မြဲမြံပါ၏။— မျက်နှာလွှဲတော်မူသောအခါ၊ ထင်း
၈ ရဲခြင်းသို့ ရောက် ပါ၏။— အိုထာဝရ ဘုရား၊ အ
၉ ကျွန်ုပ်သည်အသက်ဆုံး၍၊ သင်္ချိုင်းတွင်းထဲ
၁၀ သို့ဆင်းလျှင်၊ အဘယ်အကျိုးရှိပါအံ့နည်း။ မြေ
မှုန့်သည် ကိုယ် တော်ကို ချီးမွမ်း ပါမည် လော၊
သစ္စာ တော်ကို ဘော်ပြ ပါမည် လော၊ အိုထာဝရ
ဘုရား၊ နားထောင်၍ ကယ်မ သနား တော် မူပါ။
အိုထာဝရဘုရား၊ အကျွန်ုပ်ကိုစောင့်မတော်မူပါ
ထူ၊ ကိုယ်တော်ကို အကျွန်ုပ် စောင့်ထမ်း၍၊ ထာ
၁၁ ဝရဘုရားကို တောင်း၊ လျှောက်ပါ၏။— ထိုအခါ
အကျွန်ုပ် ညည်းတွား မြည်တမ်းခြင်းကို ကခုန်
ခြင်းဖြစ်စေတော်မူ၏၊ အကျွန်ုပ်ဝတ်သောလျှော်
တေအဝတ်ကိုချွတ်၍၊ ဝမ်းမြောက်ခြင်းခါးပန်း
၁၂ နှင့်စည်းတော်မူ၏။— သို့ဖြစ်၍၊ အကျွန်ုပ်၏ဝိညာဉ်
သည်တိတ်ဆိတ်စွာမနေ၊ ကိုယ်တော်ကိုသီချင်း
ဆိုပါမည်။ အိုအကျွန်ုပ်၏ဘုရားသခင်ထာဝရ
ဘုရား၊ ကျေးဇူးတော်ကိုအစဉ်အမြဲချီးမွမ်းပါ
မည်။

## ၃၁

၁ အိုထာဝရဘုရား၊ ကိုယ်တော်ကို အကျွန်ုပ်ခို
လှုံ ပါ၏၊ ရှက်ကြောက်ခြင်းနှင့်အစဉ်ကင်းလွတ်
ပါစေသော၊ တရားတော်နှင့် အညီ အကျွန်ုပ်ကို
၂ ကယ် နှုတ်တော် မူပါ။— အကျွန်ုပ် ထံသို့ နား
တော်ကိုညွှတ်၍၊ အလျင်အမြန်ကယ်နှုတ်တော်
မူပါ၊ ကိုယ် တော် သည် အကျွန်ုပ်၌ ခိုင် ခံ့သော
ကျောက်၊ အကျွန်ုပ်လုံခြုံရာ ရဲတိုက်ဖြစ်တော်မူ
၃ ပါ။— အကယ် စင် စစ် အ ကျွန်ုပ် ၏ ကျောက်၊ အ
ကျွန်ုပ်၏ရဲတိုက်ကား၊ ကိုယ်တော်ပေတည်း။ နာ
မတော်အမှုအလိုငှါ အကျွန်ုပ်ကိုထမ်းပြ၍၊ သွန်
၄ သင်ပို့ဆောင်တော်မူပါ။— ကိုယ်တော်သည်အကျွန်ုပ်
မှီခိုရာဖြစ်တော်မူ၏။ ထိုကြောင့်အကျွန်ုပ် အမှီ
ဖက်ထား သော ကျော့ကွင်း ထဲက အကျွန်ုပ် ကို
၅ နှုတ်ယူတော် မူပါ။— သစ္စာ စောင့်တော်မူသော
ဘုရား သခင် ထာဝရ ဘုရား၊ ကိုယ် တော် သည်
အကျွန်ုပ်ကို ရွေး နှုတ် တော် မူသည် ဖြစ်၍၊ အ
ကျွန်ုပ်၏ဝိညာဉ်ကို ကိုယ် တော်လက်၌ အပ်ပါ
၆ ၏။— ဗုဒ္ဓအနတ္တကို ဆည်းကပ်သော သူတို့ကို
အကျွန်ုပ်သည်ရန်း၍၊ ထာဝရဘုရားကိုမှီခိုပါ
၇ ၏။— ကရုဏာတော်ကြောင့် ဝမ်းသာ ရွှင်လန်း
ခြင်း ရှိပါ ထိမ့်မည်။ ကိုယ်တော်သည် အကျွန်ုပ်
ဆင်းရဲခြင်း ကို ကြည့်ရှု၍၊ အကျွန်ုပ်၏ ဝိညာဉ်
၈ တွေ့သောအမှုကို သိမှတ်တော်မူ၏။— အကျွန်ုပ်
ကိုရန်သူ လက်သို့ မအပ်ဘဲ ကျယ်ဝန်းသော အ
ရပ်၌နေရာချတော်မူ၏။
၉ အိုထာဝရဘုရား၊ အကျွန်ုပ်၌ အမှု ရောက်ပါ
ပြီ၊ ထိုကြောင့်အကျွန်ုပ်ကို သနားတော် မူပါ။ ပူ
ပန်ခြင်းအားဖြင့် အကျွန်ုပ်မျက်စိ၊ စိတ်နှလုံး၊
၁၀ ဝမ်းတို့ သည် ပျက်ကြပါပြီ။— အကျွန်ုပ်သည်ပူ
ပန်ခြင်းရှိ၍၊ အသက်ကာလကို လွန်စေရပါ၏။
နှစ်စည် အလိုင်း ညည်းတွား လျက် နေရပါ၏။

ကိုယ်ဆင်းရဲခြင်းကြောင့် အကျွန်ုပ်အားလျော့၍၊ ရန်
သူများကြောင့် အရိုးတို့သည်ဆွေး မြေ့ကြပါ၏။
၁၁ အိမ်နီးချင်းတို့သည် အကျွန်ုပ်ကို အထူးသဖြင့်
ကဲ့ရဲ့ကြပါ၏။ အကျွမ်းဝင်သောသူများတို့သည်
လည်း ရွံကြပါ၏။ အိမ်ပြင်မှာ အကျွန်ုပ်ကိုတွေ့
၁၂ မြင်သော သူတို့သည် ရှောင်၍ ပြေးကြပါ၏။ စိ
တ်နှလုံးမှ ပျောက်သော သေသူကဲ့သို့၊ အကျွန်ုပ်
ကိုမေ့လျော့ကြပါ၏။ ပျက်စီးသော အိုးခွက်ကဲ့သို့ အကျွန်ုပ်
၁၃ ဖြစ်ပါ၏။ လူများကဲ့ရဲ့ ပြစ်တင်ခြင်းကို ကြားရ
ပါ၏။ ပတ်ဝန်းကျင် အရပ်တို့၌ ကြောက်မက်
ဖွယ်သော အကြောင်းရှိပါ၏။ လူများတို့သည်
အချင်းချင်းတိုင်ပင်၍ အကျွန်ုပ် အသက်ကို
သတ်မည်အကြောင်းကြံစည်ကြပါ၏။
၁၄ သို့သော်လည်းထာဝရဘုရား၊ ကိုယ်တော်ကို
အကျွန်ုပ်ကိုးစားပါ၏။ ကိုယ်တော်သည်အကျွန်ုပ်
၏ဘုရားသခင် ဖြစ်တော်မူသည် ဟု၊ အကျွန်ုပ်
၁၅ လျှောက် ဆို ပါ၏။ အကျွန်ုပ် ၌ ဖြစ်လေ သမျှ
သောအမှုအရာတို့ကို ကိုယ်တော်စီရင်ပိုင်တော်
မူ၏။ ရန်သူ တို့နှင့် ညှဉ်းဆဲ တတ် သော သူတို့
၁၆ လက်မှအကျွန်ုပ်ကိုကယ်နှုတ်တော်မူပါ။ ကျွန်
မှာ တော်၏ အပေါ်၌ ကိုယ်တော်၏ ကျွန်အ
ပေါ်၌ထွန်းလင်းစေတော်မူပါ။ ကရုဏာတော်
၁၇ ကြောင့်၊ အကျွန်ုပ်ကိုကယ်တင်တော်မူပါ။ အို
ထာဝရဘုရား၊ အကျွန်ုပ်သည်ကိုယ်တော်ကိုဆု
တောင်း ပဌနာပြုပါသည်ဖြစ်၍၊ ရှက်ကြောက်
ခြင်းမရှိပါစေနှင့်။ လူဆိုးတို့ မူကား၊ အရှက်ကွဲ
လျက် မရဏာ နိုင်ငံ၌ တိတ်ဆိတ်စွာ နေကြ ပါ
၁၈ စေသော။ မာန ထောင်လွှားခြင်း၊ မထီမဲ့မြင်ပြု
ခြင်းနှင့်တကွ၊ ဖြောင့်မတ်သောသူတပက်၌စော်
ကားသော စကားကိုပြော၍၊ မုသာ၌ကျင်လည်
သော နှုတ်တို့သည် တိတ်ဆိတ်စွာ နေကြ ပါစေ
သော။
၁၉ ကိုယ်တော်ကိုကြောက်ရွံ့သော သူတို့အဖို့သို
ထားတော်မူ၍၊ လူသားတို့ရှေ့မှာကိုယ်တော်ကို
ခိုလှုံသောသူတို့အဖို့ပြုပြင်တော်မူသောဆုကျေး
၂၀ ဇူးတော် သည် အလွန် ကြီးလှ ပါ၏။ လူတို့ ပြု
တတ်သောပရိယာယ်နှင့်ကင်းလွတ်စေခြင်းငှါ၊
ကျိန်းဝပ်တော်မူရာအတွင်းအရပ်၌၊ ထိုသူတို့ကို
ဝှက်ထားတော်မူ၏။ ရန်တွေ့ခြင်းအသံကို ကွယ်
ကာလျက်၊ တဲတော်တွင်သူတို့ကိုစောင့်မတော်မူ
၂၁ ၏။ ထာဝရဘုရား၌မင်္ဂလာဖြစ်စေသတည်း။ အ
ကြောင်းမူကား၊ ခိုင်ခံ့သော မြို့၌ ထူးဆန်းဖွယ် သော
မေတ္တာ ကရုဏာ တော် ကို အကျွန်ုပ် အား ထင်
၂၂ ရှားပြတော်မူပြီ။ အကျွန်ုပ်သည် ကိုယ်တော်၏
မျက်နှာကွယ်ရာ၌ဆုံးရှုံးပါပြီဟု၊ အကျွန်ုပ်ထိန်
လန့်လျက် ဆိုမိသော်လည်း၊ ကိုယ်တော် ကို
အော်ဟစ်သောအခါ၊ အကျွန်ုပ်ပြုသော ပဌနာ
စကားသံကို ကိုယ်တော် နားထောင် တော် မူသ
တည်း။
၂၃ ထာဝရဘုရား၏ သန့်ရှင်းသူ အပေါင်းတို့၊
ထာဝရဘုရားကို ချစ်ကြလော့။ ထာဝရဘုရား
သည်သစ္စာ ရှိသော သူတို့ကို စောင့်မတော်မူ၏။
မာနထောင်လွှားသောသူတို့ကိုကား၊ အပြစ်များ
၂၄ စွာဆပ် ပေးတော် မူသတည်း။ ထာဝရ ဘုရား
ကိုကိုးစားသောသူအပေါင်းတို့၊ အားထူး၍ ရဲရင့်
သောစိတ်နှလုံးရှိကြလော့။

၃၂

၁ အပြစ်မှလွတ်ခြင်း၊ ဒုစရိုက်အပြစ်ကို ဖုံးအုပ်
၂ ခြင်းသို့ ရောက်သောသူသည်မင်္ဂလာရှိ၏။ ထာ
ဝရဘုရား အပြစ် တင်တော် မူခြင်းနှင့် လွတ်၍၊
လှည့်စားတတ် သော စိတ် သဘောနှင့် ကင်းစင်
သော သူသည်မင်္ဂလာရှိ၏။
၃ ငါသည်အပြစ်ကို မဖော်မပြဘဲနေစဉ်အခါ၊
တနေ့လုံးညည်းတွားသောအားဖြင့်၊ အရိုးတို့
၄ သည်ဆွေးမြေ့ခြင်းသို့ရောက်ကြ၏။ နေ့ညဉ့်မ
ပြတ်ကိုယ်တော်၏ လက်သည် အကျွန်ုပ်အပေါ်
မှာလေး၍၊ အကျွန်ုပ်၏ ခြွေးရည်သည် နွေကာ
၅ လ၌ခြောက်ခြင်းကဲ့သို့ ဖြစ်ပါ၏။ ထိုနောက်အ
ကျွန်ုပ်သည်ကိုယ်အပြစ်ကို ရှေ့တော်၌ဝန်ခံပါ
၏။ ပြုမိသောဒုစရိုက်ကိုဖုံးအုပ်၍ မထားပါ။ ငါလွန်
ကျူးသော အရာ ကို ထာဝရဘုရားအား ဝန်ခံ
တောင်းပန်မည်ဟု ပြောဆို သော အခါ၊ ကိုယ်
တော်သည်အကျွန်ုပ်ပြစ်မှားခြင်းအပြစ်ကိုလွှတ်
၆ တော်မူ၏။ ထိုကြောင့် ကိုယ်တော်ကို တွေ့သင့်
သောအချိန် ကာလ၌၊ သန့်ရှင်းသူ အပေါင်းတို့
သည် ရှေ့ တော်၌ တောင်း လျှောက် ကြ ပါ လိမ့်
မည်။ အကယ် စင်စစ် လွှမ်းမိုးတတ်သောရေကြီး
၇ သည်သူတို့ထံသို့မချဉ်းရပါ။ ကိုယ်တော်သည်
အကျွန်ုပ် ခိုလှုံရာ ဖြစ် တော် မူ၏။ အကျွန်ုပ် ကို
ဘေးလွတ်စေခြင်းငှါ ကွယ်ကာ စောင့်မတော်မူ
၏။ ကယ်လွှတ်ကြောင်းကို ဆိုသော သီခြင်းနှင့်
အကျွန်ုပ်ကိုခြံရံစေတော်မူ၏။
၈ သင့်ကိုငါသွန်သင်မည်။ သင်သွားရမည့်လမ်း
ကိုပြသနိမည်။ သင့်ကိုကြည့်ရှု၍ စုမစဉ်းစားတော်

၉ ပညာမဲ့သောမြင်းလားကဲ့သို့မဖြစ်နှင့်။-ထိုသည်
သင့် ထံသို့ မ ချဉ်း ကပ် သော့ကြောင့်၊ ပစပ်ကို
၁၀ ဇက်ခွံ၍၊ဇက်ကြိုးနှင့်ဖွဲ့ရမည်။-မတရားသော
သူသည် များစွာ သော ဒုက္ခ ကို ခံရ၏။ ထာဝရ
ဘုရား၌ကိုးစားသောသူကိုကား၊ကရုဏာတော်
၁၁ သည် ဝန်းရံတတ်၏၊- ဖြောင့် မတ်သော သူတို့၊
ထာဝရဘုရား၌ ဝမ်းမြောက် ရွှင်လန်းကြလော့။
သဘောဖြောင့်သောသူတို့၊ ရွှင်လန်းစွာသီခြင်း
ဆိုကြလော့။

၃၃

၁ ဖြောင့်မတ်သောသူတို့၊ ထာဝရဘုရားကို အ
မှီပြု၍ ရွှင်လန်းစွာသီခြင်း ဆိုကြလော့။ ထောမ
နာပြုခြင်းအကျင့်သည် သဘောဖြောင့် သောသူ
၂ တို့နှင့် ထိုက်တန် လျောက်ပတ်ပေ၏။- စောင်း
တီး၍ ထာဝရဘုရားကို ချီးမွမ်း ကြလော့။ ကြိုး
ဆယ်ပင်ရှိသော တူရိယာနှင့် ထောမနာ သီခြင်း
၃ ဆိုကြလော့။- ရှေ့တော်၌ အသစ်သော သီခြင်း
ကိုဆိုကြလော့။ တံပိုး မှုတ် ခြင်း နှင့် တကွ သာ
၄ ယာစွာတီးကြလော့။ အကြောင်းမူကား၊- ထာ
ဝရဘုရား၏ နှုတ်ကပတ်တော်သည် ဖြောင့်မတ်
ပေ၏။ စီရင်တော် မူသမျှ သော အ မှု တို့ သည်
၅ ထည်းသစ္စာတရားနှင့်ညီကြ၏။-ဖြောင့်မတ်စွာ
ကျင့်ခြင်းနှင့်တရားသဖြင့်စီရင်ခြင်းကိုနှစ်သက်
တော်မူ၏။ ပထဝီမြေကြီးသည် ထာဝရဘုရား၏
ကျေးဇူးတော်နှင့်ပြည့်စုံလျက်ရှိ၏။
၆ ထာဝရ ဘုရား၏ နှုတ်ကပတ် တော် အားဖြင့်
မိုဃ်း ကောင်းကင် ကိုဖန်၊ နှုတ် တော် အသက်
အားဖြင့်မိုဃ်း ကောင်းကင်တန် ဆာများကိုဖန်
၇ ဆင်းတော်မူ၏။-သမုဒ္ဒရာရေကိုစုပုံစုဝေးစေ
တော်မူ၏။ နက်နဲသော သမုဒ္ဒရာကို သည်းထုံချုပ်
၈ ရာအရပ်တို့၌သိုထားတော်မူ၏။-ထာဝရဘုရား
ကို မြေကြီးတပြင်လုံးကြောက်ရွံ့စေ။လောကီနိုင်
ငံသားအပေါင်းတို့သည်ရိုသေလေးမြတ်ကြစေ။-
၉ အကြောင်း မူ ကား၊ ထာဝရဘုရား မြွက်ဆို၍၊
မြွက်ဆိုတော်မူသည်အတိုင်းဖြစ်၏။အမိန့်တော်
ရှိ၍၊အမိန့်တော်မူသည်အတိုင်းတည်လျက်နေ၏။
၁၀ ထာဝရဘုရား သည် တပါး အမျိုးသား တို့၏
တိုင်ပင်ခြင်းကိုပယ်တော်မူ၏။လူစုတို့၏ကြံစည်
၁၁ ခြင်း ကို လည်း ဖျက်ဆီး တော် မူ ၏။- ထာဝရ
ဘုရား၏ပြဋ္ဌာန်းတော်မူခြင်းသည်ကာလအနန္တ
နှင့်ဆိုင်၍၊ စိတ်နှလုံးတော်၏ အကြံအစည်တို့
သည် သား စဉ် မြေးဆက် အဆုံး တိုင် အောင်
၁၂ တည်ကြလိမ့်မည်။-ထာဝရဘုရားသည်အကြင်
အမျိုး၏ဘုရားဖြစ်၍၊ အကြင်လူစုကို မိမိအမွေ
ဥစ္စာဘို့ ရွေးကောက်တော်မူ၏။ ထိုအမျိုးနှင့်ထို
လူစုသည်မင်္ဂလာရှိ၏။
၁၃ ထာဝရဘုရားသည် ကောင်းကင်ဘုံကကြည့်
ရှု၍၊ လူသား အ ပေါင်း တို့ကို မြင် တော် မူ ၏။-
၁၄ ကျိန်း ဝပ်တော် မူရာ အရပ်က ကြည့်ရှု၍၊ မြေ
ကြီး ပေါ်မှာ နေ သော သတ္တဝါ အ ပေါင်း တို့ ကို
၁၅ မှတ်တော်မူ၏။-သူတို့၏စိတ်နှလုံးရှိသမျှတို့ကို
ဖန်ဆင်း၍၊ သူတို့ကျင့်သမျှသောအကျင့်တို့ကို
၁၆ လည်း ဆင်ခြင်တော်မူ၏။- ရှင်ဘုရင်မည်သည်
ကား၊ များ စွာသောအလုံးအရင်းအားဖြင့် ချမ်း
သာမရ။ သူရဲ သည် လည်း ခွန် အား ကြီးသော
၁၇ အားဖြင့် ကယ် လွှတ် ခြင်းသို့ မရောက်။- မြင်း
သော်လည်းဘေးလွှတ်ခြင်းအမှုကိုမတတ်နိုင်။
ကြီး စွာ သော ခွန် အား ဗလ ဖြင့် မ ကယ် မတ
၁၈ နိုင်။- ထာဝရဘုရားကို ကြောက်ရွံ့သော သူတို့
နှင့်၊ ကရုဏာတော်ကို မြော်လင့်သော သူတို့သည်-
၁၉ သေဘေး နှင့်ကင်းလွတ်မည်အကြောင်း၊ အစာ
ခေါင်း ပါး သည် ကာလ၌ အသက် ရှင်မည် အ
ကြောင်း၊ သူတို့ကိုကြည့်ရှုလျက် ရှိတော်မူ၏။-
၂၀ ငါတို့၏ဝိညာဉ်သည်ထာဝရဘုရားကိုမျှော်ထင့်
လျက်နေ၏။ထိုဘုရားသည်ငါတို့ကိုမစသောသူ၊
၂၁ ကွယ်ကာသောသူဖြစ်တော်မူ၏။-သန့်ရှင်းသော
နာမတော်ကိုမြော်လင့်သောကြောင့်၊ ငါတို့သည်ထာ
၂၂ ဝရဘုရား၌ဝမ်းမြောက်ခြင်းရှိကြ၏။- အို ထာ
ဝရဘုရား၊ အကျွန်ုပ်တို့သည် ကိုယ်တော်ကိုကိုး
စားသည်နှင့်အညီ၊ အကျွန်ုပ်တို့ အပေါ်မှာ ကရု
ဏာတော်သက်ရောက်ပါစေသော။

၃၄

ဒါဝိဒ်သည် အဘိမလက်မင်းရှေ့မှာ ထူးခြားသော
အခြင်းအရာ ကိုပြုသဖြင့်၊ နှင် ထုတ်ခြင်း
ကိုခံ ရ၍ ထွက် သွား သော အခါ
စပ်ဆိုသော ဆာလံ။

၁ ငါသည် ခပ်သိမ်းသော ကာလ တို့၌ ထာဝရ
ဘုရားကို ကောင်းကြီးပေးမည်။ ဂုဏ်ကျေးဇူး
၂ တော်ကိုအစဉ်မပြတ်မြွက်ဆိုမည်။-ငါ့ဝိညာဉ်
သည်ထာဝရ ဘုရားကို အမှီပြု၍ ဝါကြွားခြင်း
ကိုပြုမည်။နှိမ့်ချလျက်ရှိသောသူတို့သည်ကြား
၃ သိ၍၊ဝမ်းမြောက်ကြပါစေသော။- ငါနှင့်အတူ
ထာဝရ ဘုရားကို ချီးမွမ်း ကြလော့။ နာမ တော်
ကိုတညီတညွတ်တည်းချီးမြှောက်ကြကုန် အံ့။-

၄ ငါသည် ထာဝရဘုရားကို ရှာသော အခါ နား
ထောင်တော်မူ၏၊ ကြောက်မက်ဖွယ်သော အ
ကြောင်းအလုံးစုံတို့အထဲက၊ ငါ့ကို ကယ်နှုတ်
၅ တော်မူ၏။- ထာဝရဘုရားကို မျှော်ကြည့်ကြ
လော့၊ အလင်းကို ရကြလိမ့်မည်၊ မျက်နှာရှက်
၆ ကြောက်ခြင်းနှင့် ကင်းလွတ်ကြလိမ့်မည်။- ဤ
ဆင်းရဲသောသူ၏ အော်ဟစ်ခြင်းအသံကို ထာ
ဝရဘုရားသည် နားထောင်၍၊ ခပ်သိမ်းသော
၇ ဆင်းရဲထဲက ကယ်နှုတ်တော်မူ၏။- ထာဝရ
ဘုရားကို ကြောက်ရွံ့သော သူတို့ပတ်ထည်၌
ကောင်းကင်တမန်တော်တို့သည် တပ်ချ၍ကယ်
၈ နှုတ်တတ်ကြ၏။- ထာဝရဘုရားသည်ကောင်း
မြတ်တော်မူသည် အကြောင်းကို မြည်းစမ်း၍
သိမှတ်ကြလော့၊ ကိုယ်တော်ကို ခိုလှုံသောသူ
၉ သည် မင်္ဂလာရှိ၏။- ထာဝရဘုရား၏ သန့်ရှင်း
သူတို့၊ ထာဝရဘုရားကို ကြောက်ရွံ့ကြလော့၊
ကြောက်ရွံ့သော သူတို့၌ ဆင်းရဲခြင်း မရှိရာ။-
၁၀ ခြင်္သေ့တို့သည်ဆင်းရဲ၍ ငတ်မွတ်ခြင်းကိုခံရ
သော်လည်း၊ ထာဝရဘုရားကို ရှာသောသူတို့၌
ကောင်းသောအရာတစုံတခုမျှမလိုရာ။

၁၁ အချင်းသူငယ်တို့၊ လာကြလော့၊ စကားကို
နားထောင်ကြလော့၊ ထာဝရဘုရားကိုကြောက်
ရွံ့ခြင်းတရားကိုသင်တို့အား ငါ သွန်သင်မည်။-
၁၂ ကောင်းမွန်သော အရာကို တွေ့မြင်မည် အ
ကြောင်း၊ အသက်ရှင်ခြင်းနှင့်တကွနေ့ရက်ကာ
လကိုတောင့်တလိုချင်သောသူမည်သည်ကား။-
၁၃ ကိုယ်လျှာကို မကောင်းသောအရာနှင့် ကင်းစေ
လော့၊ နှုတ်ခမ်းသည်း ရှုသာစကားကိုမပြောစေ
၁၄ နှင့်။-ဒုစရိုက်ကိုရှောင်၍ သုစရိုက်ကိုပြုလော့၊
သူတပါးနှင့် အသင့်အတင့် နေခြင်းကိုရှာ၍ မှီ
၁၅ အောင်လိုက်လော့။-ထာဝရဘုရားသည် ဖြောင့်
မတ်သောသူတို့ကိုကြည့်ရှုတော်မူ၏၊သူတို့အော်
၁၆ ဟစ်သံကိုလည်းနားထောင်တော်မူ၏။-ဒုစရိုက်
ကို ပြုသော သူ တို့ ကို ကား မြေကြီးပေါ်မှာ
အောက်မေ့စရာအမှတ်မျှမရှိစေခြင်းငှါပယ်ရှင်း
မည် အကြောင်း၊ ထာဝရဘုရားသည် မျက်နှာ
၁၇ ထားတော်မူ၏။- ဖြောင့်မတ်သောသူတို့သည်
အော်ဟစ်သောအခါ၊ ထာဝရဘုရားသည် နား
ထောင်၍၊ သူတို့ကိုခပ်သိမ်းသောဆင်းရဲထဲက
၁၈ ကယ်နှုတ်တော်မူ၏။- ထာဝရဘုရားသည်
ကျိုးပဲ့သော စိတ်ရှိသော သူတို့နှင့် နှစ်လုံးကြေ
ညက်သော သူတို့ကို နီးတော်မူ၏၊ နှောင်တရှိ၍
စိတ်နှိမ့်ချသော သူတို့ကိုလည်း ကယ်တင်တော်
၁၉ မူ၏။- ဖြောင့်မတ်သော သူသည် များစွာသော
ဒုက္ခဆင်းရဲကို ခံရသော်လည်း၊ ထာဝရဘုရား
သည် ခပ်သိမ်းသော ဒုက္ခဆင်းရဲထဲက ကယ်
၂၀ နှုတ်တော်မူ၏။- သူ၏အရိုးရှိသမျှတို့ကို စောင့်
ရှောက်တော်မူသည်ဖြစ်၍၊ တချောင်းမျှမကျိုး
၂၁ မပဲ့ရ။- မတရားသော သူမူကား၊ ဘေးဖြင့် အ
သက်ဆုံးခြင်းသို့ ရောက်ရမည်၊ ဖြောင့်မတ်သော
သူကို မုန်းသောသူတို့သည်အပြစ်စီရင်ခြင်းကို
၂၂ ခံရကြမည်။-ထာဝရဘုရားသည် မိမိကျွန်တို့၏
အသက်ဝိညာဉ်ကိုရွေးနှုတ်တော်မူသည်ဖြစ်၍၊
ကိုယ်တော်ကို ခိုလှုံသောသူ တစုံတယောက်မျှ
အပြစ်စီရင်ခြင်းကိုမခံရ။

၃၅

၁ ဪထာဝရဘုရား၊ အကျွန်ုပ်၌ဆန့်ကျင်ဘက်
ပြုသောသူတို့ကိုဆန့်ကျင်ဘက်ပြုတော်မူပါ။ အ
ကျွန်ုပ်ကို စစ်တိုက်သော သူတို့ကို တိုက်တော်မူ
၂ ပါ။- ဒိုင်းလွှားကိုကိုင်၍ အကျွန်ုပ်ကိုမစခြင်း
၃ ငှါထတော်မူပါ။- အကျွန်ုပ်ကိုလိုက်သောသူတို့
ရှေ့၌လှံတော်ကိုဆွဲ၍ ဆီးတားတော်မူပါ။ ငါ
သည်သင်၏ ချမ်းသာပေးသော သူဖြစ်သည်ဟု
၄ အကျွန်ုပ်၏ဝိညာဉ်အားမိန့်တော်မူပါ။ အကျွန်ုပ်
အသက်ကို ရှာသော သူတို့ သည် အရှက်ကွဲ၍
မျက်နှာပျက်ကြပါစေသော၊ အကျွန်ုပ်ကို အန္တ
ရာယ် ပြုမည်ဟု ကြံစည်သော သူတို့သည် ဖျက်
ခြင်းကို ခံရ၍ ရှက်ကြောက်ခြင်းသို့ရောက်ကြပါ
၅ စေသော။- ထိုသူ တို့ သည် လေတိုက်သော ဖွဲကဲ့
သို့ ဖြစ်ကြပါစေသော၊ ထာဝရဘုရား၏ တမန်
၆ သည်ထည်းသူတို့ကို ဖျည်းပါစေသော။- သူတို့
သွားသော လမ်းသည် မိုက်သော လမ်း၊ ချော
သောလမ်းဖြစ်ပါစေသော၊ ထာဝရဘုရား၏ တ
၇ မန်သည်လည်းသူတို့ကို လိုက်ပါစေသော။- အ
ကြောင်းမရှိဘဲအကျွန်ုပ်အဖို့ကျော့ကွင်းကိုဖွက်
ထားကြပါပြီ၊ အကြောင်း မရှိဘဲ အကျွန်ုပ် အ
၈ သက်ကို ထတ်စရာအိုးကို တူးကြပါပြီ။- ထို
သို့သော သူသည် အမှတ်တမဲ့ ဖျက်ဆီးခြင်းသို့
ရောက်ပါစေသော၊ မိမိ ဝှက်ထားသော ကျော့
ကွင်းသည် မိမိကို ကျော့မိပါစေသော၊ မိမိတွင်း
၉ ထဲသို့ မိမိကျပါစေသော။- သို့ဖြစ် လျှင် ငါ၏ ဝိ
ညာဉ်သည် ထာဝရဘုရားကို အမှီပြု၍၊ ဝမ်း
မြောက်ခြင်းရှိလိမ့်မည်။ ကယ်တင်တော်မူခြင်း
အကြောင်းကိုလည်း၊ အမှီပြု၍ စိတ်ရွှင်လန်းခြင်း

၆ ရှိပါ၏။- ဖြောင့်မတ်တော်မူခြင်း တရားသည်
ကြီးမားသွားသော တောင်ရိုးနှင့်တူပါ၏၊ တရား
စီရင်တော်မူချက်တို့သည် အလွန်နက်နဲရာ မြစ်
ကြီးပါ၏၊အိုထာဝရဘုရား၊ ကိုယ်တော်သည်လူ
၇ မျိုးနှင့်တိရိစ္ဆာန်မျိုးကိုစောင့်မတော်မူ၏။- အို
ဘုရားသခင်၊ ကရုဏာတော်သည် အလွန်မြတ်
နိုးဖွယ်ဖြစ်ပါ၏၊ ထိုကြောင့်လူသား တို့သည်အ
တောင်တော်အရိပ်ကိုခိုလှုံလျက်နေရကြပါ၏။-
၈ အိမ်တော်၏ကြွယ်ဝခြင်းနှင့် ရောင့်ရဲလျက်နေ
၍၊ကိုယ်တော်၏ချမ်းသာမြစ်ရေကို သောက်စေ
၉ ခြင်းငှါ အခွင့်ပေးတော်မူ၏။- အကြောင်းမူ
ကား ကိုယ်တော်ထံမှာ အသက်စမ်းရေ တွင်း
ရှိပါ၏၊ အလင်းတော်ထဲမှာ အကျွန်ုပ်တို့သည်
အလင်းကိုရကြပါ၏။
၁၀ ကိုယ်တော်ကိုသိသော သူတို့အား ကရုဏာ
တော်ကိုရှင်၊ သဘောဖြောင့်သော သူတို့အား၊
ဖြောင့်မတ်တော်မူခြင်း တရားကို ရှင် တည်မြဲ
၁၁ သည်စေတော်မူပါ။- မာနထောင်ခြေသည်အကျွန်ုပ်
ကိုမနင်းပါစေနှင့်၊ မတရားသောသူတို့သည်အ
၁၂ ကျွန်ုပ်ကိုနေရာမရွေ့ကြပါစေနှင့်။- ဒုစရိုက်ကို
ပြုသောသူတို့သည်ထိုအရပ်၌ပင်လဲလျက်နေရ
ကြပါ၏၊ ဖျက်ဆီးခြင်းကိုခံရသောကြောင့်၊ထမြန်
ထခြင်းငှါမတတ်နိုင်ကြပါ။

၃၇

၁ လူဆိုးတို့အကြောင်းကြောင့်စိတ်မပူနှင့်၊ မ
၂ တရားသဖြင့် ပြုသောသူတို့ကို မငြူစူနှင့်။- အ
ကြောင်းမူကား၊ သူတို့သည်မကြာမမြင့်မှီ မြက်
ပင်ကဲ့သို့ ရိတ်ခြင်းကို ခံရ၍၊ စိမ်းသော မြူးပင်
၃ ညှိုးနွမ်းသကဲ့သို့ ဖြစ်ရလိမ့်မည်။- ထာဝရ
ဘုရားကိုခိုလှုံ၍၊ ကောင်းသောအကျင့်ကို ကျင့်
လော့၊ ပြည်တော်၌နေ၍၊သစ္စာတရားကိုကျွေး
၄ စားလော့။- ထာဝရဘုရား၌ မွေ့လျော်ခြင်း ရှိ
လော့၊ သို့ပြုလျှင်၊ စိတ်နှစ်သက်၍အလိုပြည့်စုံရ
၅ သောအခွင့်ကိုပေးတော်မူမည်။- ကိုယ်အမှုအ
ရာကိုထာဝရဘုရား၌အပ်လော့၊ကိုယ်တော်ကို
၆ ကိုးစားလော့၊သို့ပြုလျှင်စီရင်တော်မူမည်။-ထင်
ရှားခြင်းဖြောင့်မတ်ခြင်း အကြောင်းကို အလင်းကဲ့သို့
၎င်း၊ တရားသဖြင့် ပြုခြင်းအရာကို မွန်းတည့်
၇ ရောင်ခြည်ကဲ့သို့၎င်း ဖော်ပြတော်မူမည်။- ထာ
ဝရဘုရား၌မှာ ငြိမ်ဝပ်စွာ နေ၍၊ ကိုယ်တော်
ကိုငံ့လင့်လော့၊ မိမိအမှု၌အောင်တတ်သောသူ၊
မကောင်းသော အကြံအစည်တို့ကို ပြီးစီး စေ
သောသူ၏အကြောင်းကြောင့် စိတ်မပူနှင့်။- အ
၈ မျက် မထွက် စေ နှင့်၊ ဒေါသ စိတ်ကို ရှုန့် ပယ်
လော့၊ပြစ်မှားစေခြင်းငှါ ထိုတ်လွန်းတတ်သော
၉ စိတ်မရှိစေနှင့်။- ပြစ်မှားသော သူတို့သည်ပယ်
ရှင်းခြင်းကို ခံရကြလိမ့်မည်၊ ထာဝရဘုရားကို
မျှော်လင့်သောသူတို့မူကား၊ပြည်တော်ကိုအမွေ
၁၀ ခံရကြလိမ့်မည်။- ခဏကြာပြီးမှ၊မတရားသော
သူသည်မရှိရ၊ သူ၏နေရာကို ရှာ၍ မတွေ့
၁၁ ရ။- စိတ်နှိမ့်ချသောသူတို့မူကား၊ ပြည်တော်ကို
အမွေခံ၍၊ များပြားသောငြိမ်သက်ခြင်း၌ မွေ့
၁၂ လျော်ကြလိမ့်မည်။- မတရားသော သူသည်
ဖြောင့်မတ်သောသူတစ်ဘက်၌ကြံစည်၍သွား
၁၃ ခဲကြိတ်တတ်၏။- သခင်ဘုရားသည်၊သူ၏နေ့ရက်အ
ချိန်ရောက်မည်ကိုဘုရားရှင်သိမြင်၍၊ သူကိုပြုံး
၁၄ ရယ်တော်မူ၏။- မတရားသောသူတို့သည်ဆင်း
ရဲ တော် ငွတ် သော သူတို့ကို ဖျက်ဆီးခြင်းငှါ၎င်း၊
ဖြောင့်မတ်စွာ ကျင့်သောသူတို့ကို သတ်ခြင်းငှါ
၎င်း၊ဓားကိုထုတ်လျက်၊ လေးကို တင်လျက်နေ
၁၅ တတ်ကြ၏။- သို့သော်လည်း၊ သူတို့ဓားသည်
သူတို့နှစ်လုံးထဲသို့ဝင်လိမ့်မည်၊ သူတို့လေးတို့
သည်လည်းကျိုးကြလိမ့်မည်။
၁၆ ဖြောင့်မတ်သော သူ၌ နည်းသော ဥစ္စာသည်
မတရားသော သူကြီးတို့၌ ကြွယ်ဝသော ဥစ္စာ
၁၇ ထက်သာ၍ကျေးဇူးရှိ၏။- အကြောင်းမူကား၊
မတရားသော သူ၏ လက်ရုံးသည် ကျိုးရလိမ့်
မည်၊ ဖြောင့်မတ်သောသူကိုကား၊ထာဝရဘုရား
၁၈ မစတော်မူ၏။- ဖြောင့်မတ်သောသူတို့၏နေ့ရက်
ကာလကို ထာဝရဘုရား သိမှတ် တော်မူ၍၊ သူ
တို့၏အမွေ ဥစ္စာသည် အစဉ်အမြဲ တည် လိမ့်
၁၉ မည်။- လူတို့သည်ခဲယဉ်းသော ကာလ၌ရှက်
ကွဲမဖြစ်ရ၊ အစာခေါင်းပါးသည်ကာလ၌ ဝစွာ
၂၀ စားရကြ၏။- မတရားသောသူတို့မူကား၊ ပျက်
စီးခြင်းသို့ရောက်ရကြမည်၊ထာဝရဘုရား၏ရန်
သူတို့သည် ကျက်စားရာအရပ်၏အဆီရေကဲ့သို့
ဆုံး၍၊ မီးခိုး ဖြစ်လျက် ကွယ် ပျောက် ကြ လိမ့်
၂၁ မည်။-မတရားသောသူသည်ချေးငှါး၍မဆပ်ဘဲ
နေတတ်၏၊ ဖြောင့်မတ်သော သူမူကား၊ သနား
၂၂ သော စိတ်ရှိ၍ ပေးတတ်၏။- ကောင်းကြီးပေး
တော်မူခြင်းကိုခံရ သောသူသည် ပြည်တော်ကို
အမွေ ခံရ လိမ့်မည်၊ ကျိန် တော် မူခြင်းကို ခံရ
သောသူမူကား၊ ပယ်ရှင်းခြင်းသို့ ရောက်ရလိမ့်
၂၃ မည်။- ကောင်းသောသူ၏ ခြေရာတို့ကို ထာဝရ

ဘုရားသခင့်ပဲ့ကျင်၍၊သူသွားရာလမ်းကိုနှစ်သက်
၂၄ တော်မူ၏။- ထိုသူသည် လဲသော်လည်း၊ဆုံး ရာ
သို့မရောက်ရ။အကြောင်းမူကား၊ထာဝရဘုရား
၂၅ သည်သူ၏ လက်ကို ကိုင်မ တော် မူ၏။-ဖြောင့်
မတ်သော သူသည် စွန့်ပြစ်ခြင်းကို ခံရသည်အ
ကြောင်း၊ သူ၏သားမြေးတို့သည်တောင်း၍စား
ရသည်အကြောင်းကို၊ငါသည်အသက်ပျိုသည်
၂၆ ကာလမှစ၍အိုသည်တိုင်အောင်မမြင်စဖူး။-သူ
သည်အစဉ်သနားသောစိတ်ရှိသည်နှင့်၊သူတ
ပါးတို့အားချေးငှါးတတ်သည်ဖြစ်၍၊သူ၏သား
မြေးတို့သည်ကောင်းကြီးမင်္ဂလာကိုခံရကြ၏။
၂၇ ဒုစရိုက်ကို ဖွဲရှောင်၍ သုစရိုက်ကို ပြုလော့။
၂၈ သို့ပြုလျှင်အစဉ်အမြဲ နေရလိမ့်မည်။- ထာဝရ
ဘုရားသည်တရားကိုနှစ်သက်တော်မူ၏။မိမိသန့်
ရှင်း သူတို့ ကိုလည်း စွန့်တော် မမူ။ သူတို့သည်
စောင့်မတော်မူခြင်းကို အစဉ်အမြဲ ခံရကြလိမ့်
မည်။မတရားသောသူ၏သားမြေးတို့မူကား၊ပယ်
၂၉ ရှင်းခြင်းကိုခံရကြလိမ့်မည်။-ဖြောင့်မတ်သော
သူတို့သည်ပြည်တော်ကိုအမွေခံ၍၊အစဉ်အမြဲ
၃၀ နေရကြလိမ့်မည်။- ဖြောင့်မတ်သော သူ၏ နှုတ်
သည်ပညာကိုမြွက်ဆိုတတ်၏။ သူ၏လျှာသည်
လည်း တရားသောစကားကို ပြောဆိုတတ်၏။-
၃၁ ထာဝရဘုရား၏ တရားတော်သည် သူ၏စိတ်နှစ်
လုံးထဲမှာတည်သည်ဖြစ်၍၊ သူသွားသောအခါ
၃၂ မချော် မလဲရ။- မတရား သော သူသည် ဖြောင့်
မတ်သောသူကို ချောင်းမြောင်း၍ သတ်ခြင်းငှါ
၃၃ ရှာကြံတတ်၏။- သို့သော်လည်း၊ထာဝရဘုရား
သည်ထိုသူ၏လက်၌ ဖြောင့်မတ်သောသူကိုစွန့်
ပြစ်တော်မူမည်မဟုတ်၊အစစ်ခံရသောအခါအ
၃၄ ပြစ်စီရင်တော် မူမည်မ ဟုတ်။- ထာဝရဘုရား
ကို မျှော် လင့်၍၊ လမ်း တော် ကို ရှောက် သွား
လော့။ ပြည်တော် ကို အမွေခံရ သော အခွင့် နှင့်
ချီးမြှောက်တော်မူမည်။ မတရားသောသူတို့ဆုံး
၃၅ ရှုံးခြင်းကိုသင်သည် ကြည့်မြင်ရလိမ့် မည်။- မ
တရားသောသူသည်အစိုးတရပြု၍၊ပေါက်ရင်း
အရပ်မှာကြီးပွားသော သစ်ပင်ထန်းထန်းရှိသ
ကဲ့သို့၊ ကိုယ်ကိုကိုယ်ပြန့်ပွားစေသည်ကိုငါမြင်
၃၆ ရသော်လည်း၊- နောက်တဖန် သူသည် ရွှေသွား
၍ကွယ် ပျောက်၏။ ထိုကိုလည်း ငါရှာ၍ မတွေ့
၃၇ ရ။- စုံလင်ခြင်းတရားကို စောင့် ရှောက် လော့။
ဖြောင့်မတ်ခြင်းတရားကိုကြည့်ရှုဆင်ခြင်လော့။
ထိုသို့ပြုသောသူသည်အဆုံး၌ ငြိမ်သက်ခြင်းကို
၃၈ ခံစားရလိမ့်မည်။-ပြစ်မှားသောသူအပေါင်းတို့
သည်ပျက်စီးခြင်းသို့ရောက်၍၊မတရားသောသူ
တို့သည်အဆုံး၌ ပယ်ရှင်း ခြင်းကို ခံရကြလိမ့်
၃၉ မည်။- ဖြောင့်မတ်သောသူတို့၏ ကယ်တင်ခြင်း
အမှုကို ထာဝရ ဘုရား စီရင် တော် မူ၏။ ဘေး
ရောက်သည်ကာလ၌ သူတို့မှီလှုံရာ ဖြစ်တော်မူ
၄၀ ၏။- ထာဝရဘုရားသည်သူတို့ကို မစကယ်တင်
တော် မူမည်။ ယုံကြည် မှီလှုံ သော ကြောင့်၊ မ
တရား သော သူ တို့ လက် မှ နှုတ် ယူ ကယ် တင်
တော်မူမည်။

၃၈

အောင်းမေ့စေခြင်းငှါစပ်ဆိုသောဆာလံ။

၁ အိုထာဝရဘုရား၊ အမျက်တော်ထွက်၍၊ အ
ကျွန်ုပ် ကို အပြစ် တင် တော် မမူ ပါ နှင့်။ ပြင်း
စွာသော စိတ်တော်ရှိ၍ ဆုံးမ တော် မမူပါ နှင့်။-
၂ မြားတော် တို့သည် အကျွန်ုပ်၌ စူးဝင်၍၊ လက်
၃ တော်သည် အကျွန်ုပ်ကို နှိပ် လျက် ရှိပါ၏။- အ
မျက်တော်ထွက်သောကြောင့်၊အကျွန်ုပ်အသား
သည်ကျန်းမာခြင်းမရှိပါ။ဒုစရိုက်အပြစ်ကြောင့်
၄ အရိုးများထဲမှာသက်သာခြင်းမရှိပါ။-အကျွန်ုပ်
ပြုမိသော ဒုစရိုက် တို့သည် အကျွန်ုပ် ခေါင်းကို
လွှမ်းမိုး၍၊လေးသောဝန်ကဲ့သို့အကျွန်ုပ်မထမ်း
၅ နိုင်အောင်လေး ကြပါ၏။- အကျွန်ုပ် မိုက်သော
အမှုကြောင့်အနာတို့သည် နံစော်၍ ထိမ်ပွဲလျက်
၆ ရှိကြပါ၏။- အကျွန်ုပ်သည် ပြင်းထန်စွာ ခံရ၍၊
အလွန်နှိမ့်ချလျက်၊ ကြမ်းတမ်းသောအဝတ်ကို
၇ ဝတ်လျက်တနေ့လုံးသွားရပါ၏။- အကျွန်ုပ်ခါး
သည် ပူလောင်သော အနာစွဲ၍၊ အသားသည်
၈ လည်းကျန်းမာခြင်းမရှိပါ။- ညှိုးနွမ်းခြင်း၊ကြေကွဲ
ခြင်းရှိ၍၊စိတ်နှလုံးလှုပ်ရှားသဖြင့်အော်ဟစ်
ရပါ၏။
၉ အိုဘုရားရှင်၊ အကျွန်ုပ်အလိုရှိသမျှသည်ရှေ့
တော်၌ထင်ရှားပါ၏။အကျွန်ုပ်ညည်းတွားခြင်း
၁၀ ကိုလည်း အကွယ်မဲ့ သိတော်မူ၏။- အကျွန်ုပ်၏
နှလုံးတုန်လှုပ်၍၊ ခွန်အားလည်း ကုန်ပါပြီ။
၁၁ မျက်စိ အလင်းလည်း ကွယ် ပျောက်ပါပြီ။- အ
ကျွန်ုပ် ၏ အဆွေ ခင်ပွန်း၊ အပေါင်း အဖော် တို့
သည်အကျွန်ုပ် အနာ ရောဂါကြောင့်၊ ဝေးဝေး
ရပ်လျက်ပေါက်ဖော်တို့သည်လည်းရှောင်လျက်
၁၂ နေကြပါ၏။- အကျွန်ုပ် အသက်ကို ရှာသော သူ
တို့သည် ကျော့ကွင်းများကို ထောင် ထား ကြပါ
၏။အကျွန်ုပ်၌အပြစ်ပြုခြင်းအခွင့်ကိုရှာသောသူ

ထိုသည်တနေ့လုံး မနာထိုသောစကားကို ပြော
၍၊ မကောင်းသောစရိုထသယ်ကို ကြံစည်ကြပါ
၁၃ ၏။- အကျွန်ုပ်မူကား၊ နားပင်းသောသူကဲ့သို့မ
ကြား၊ နှုတ်ကိုမဖွင့်တတ်သောလူကဲ့သို့ ဖြစ်ပါ
၁၄ ၏။- နားမကြား၊ပြန်၍မပြင်းနိုင်သော သူကဲ့သို့
၁၅ ဖြစ်ပါ၏။-အကြောင်းမူကား၊ ထိုထာဝရဘုရား၊
ကိုယ်တော်ကို အကျွန်ုပ် ကိုးစားပါ၏၊ အကျွန်ုပ်
၏အရှင်ဘုရားသခင်၊ ကိုယ်တော်သည်ပြန်ပြော
၁၆ တော်မူမည်။- သို့မဟုတ်၊ သူတို့သည်အကျွန်ုပ်
အမှုမှာ ဝမ်းမြောက်ကြ ပါလိမ့်မည်၊ အကျွန်ုပ်
သည် ခြေချော် သော အခါ၊ အကျွန်ုပ် တဖက် ၌
ကိုယ်ကိုမြှင့်မြောက်ကြပါလိမ့်မည်ဟု လျှောက်
၁၇ ပါပြီ၊- အကျွန်ုပ်ထဲလုသည်ဖြစ်၍၊ ကိုယ်ဆင်း
ရဲခြင်းကို အစဉ်အောင်း မေ့လျော့ နေရပါ၏။-
၁၈ ကိုယ်အပြစ် ကို ဖော် ပြ ပါ ၏၊ ပြစ်မှားမိသော
၁၉ ကြောင့်မိတ် ပူပန်ခြင်းရှိပါ၏။- အကျွန်ုပ်၏ရန်
သူတို့ကား၊ကျန်းမာလျက်၊ခွန်အားကြီးလျှက်ရှိ
ကြပါ၏၊ အကျွန်ုပ်ကိုမတရားမှန်ဘဲ ရန်သော
၂၀ သူတို့ကား၊ များပြားကြပါ၏။- အကျွန်ုပ်သည်
ကျေးဇူးတရားကိုကြိုးစား၍ကျင့်သောကြောင့်၊
ကျေးဇူး အတွက် အပြစ် ပြုတတ် သော သူတို့
၂၁ သည်အကျွန်ုပ်ကိုရန်ဘက်ပြုကြပါ၏။- ထိုထာ
ဝရဘုရား၊ အကျွန်ုပ်ကိုစွန့်ပြစ်တော်မမူပါနှင့်၊
အကျွန်ုပ်၏ ဘုရား၊ အကျွန်ုပ် နှင့် ဝေးဝေး နေ
၂၂ တော်မမူပါနှင့်။- အကျွန်ုပ်ကိုကယ်တင်တော်မူ
သောဘုရားရှင်၊ အကျွန်ုပ်ကိုမစခြင်းငှါ အလျင်
အမြန်ကြွလာတော်မူပါ။

၃၉

၁ ငါသည် စကား ဖြင့် မှ မ ပြစ် မှား မည် အ
ကြောင်း၊ ကိုယ်အကျင့်ကိုသတိပြုမည်၊ မတရား
သောသူသည်ငါ့ရှေ့မှာရှိစဉ်၊ ငါသည်ကိုယ်နှုတ်
၂ ကိုချုပ်နှောင်မည်ဟုငါပြောထား၏။-စကားမ
ပြောဘဲအလျက်နေ၏၊ကောင်းသောအရာကိုပင်
မပြော၊ထိုသို့နေစဉ်၊ ငါသည်စိတ်ညှစ်ညူးခြင်း
၃ ရှိ၏။-ကိုယ်အထဲမှာနှစ်လုံးပူလောင်ခြင်းရှိ၏၊ငါ
ညည်းတွားစဉ်၊ မီးလောင်လေ၏၊ ထိုအခါငါ
သည်နှုတ်မြွက်၏။
၄ ထိုထာဝရဘုရား၊ အကျွန်ုပ်သည် ကိုယ်ပျက်
တတ်သောအထောကို သိရပါမည် အကြောင်း၊
အကျွန်ုပ်၏ထိမ်းဆုံးကိုရင်၊ အကျွန်ုပ်၏အသက်
၅ အပိုင်းအခြားကိုရင်ထိစေတော်မူပါ။-အကျွန်ုပ်
အသက်တာကို တမိုက်မျှသော စရှိ ထား တော်မူ
ပြီ၊ အကျွန်ုပ်အစွယ်သည် ရှေ့တော်၌ ထာမျှမ
ထုတ်သကဲ့သို့ဖြစ်ပါ၏၊ အကယ်စင်စစ် လူမည်
သည်ကား၊ လူ၏အတွင်း သို့ရောက်တော်သည်။
၆ အနုတ္တသက်သက် ဖြစ်ပါ၏။- အကယ်စင်စစ်လူ
သည်အရိပ်၌ သွားလာလည်ပါ၏၊ အကယ်စင်
စစ်လူတို့သည် အကျိုးမဲ့ ပင်ပန်းကြပါ၏၊ ဥစ္စာ
ကိုဆည်းပူးသော်လည်း၊ အဘယ်သူရမည်
ကိုမသိရပါ။
၇ ထရေမူကား၊ အကျွန်ုပ်သည် အဘယ်သို့မျှော်
လင့် ရပါမည် နည်း၊ ထိုထာဝရ ဘုရား၊ ကိုယ်
တော်၌သာ မျှော်လင့်စရာအကြောင်း ရှိပါ၏။-
၈ ပြစ်မှား မိ သမျှ သော အပြစ် တို့မှ အကျွန်ုပ် ကို
လွှတ်တော်မူပါ၊ မိုက်သောသူတို့၏ကဲ့ရဲ့ခြင်းကို
၉ ခံစေတော်မမူပါနှင့်။- ကိုယ်တော် စီရင်တော်မူ
ရာဖြစ် သော ကြောင့်၊ အကျွန်ုပ် ပြောစရာ မရှိ၊
၁၀ နှုတ်ကို မဖွင့်ဘဲ နေရပါ၏။- အကျွန်ုပ်ကို ဒဏ်
ခတ်တော် မမူပါနှင့် ဦး၊ လက်တော် အောက်၌
၁၁ ဆုံးခြင်းကိုခံရ၍၊ အားကုန်ပါပြီ။- ကိုယ်တော်
သည် လူတို့ အပြစ် ကြောင့် ဆုံးမ၍ ဒဏ် ခတ်
တော်မူလျှင်၊ ပိုးရွဖျက်တတ်သကဲ့သို့၊ လူတို့၏
တင့်တယ်ခြင်းအသရေကိုပြယ်ပျောက်စေတော်
မူ၏၊အကယ်စင်စစ်လူခပ်သိမ်းတို့သည် အနုတ္တ
၁၂ သက်သက်ဖြစ်ကြပါ၏။- ထိုထာဝရဘုရား၊အ
ကျွန်ုပ် ဆု တောင်းခြင်း ပဌနာကို ကြားတော်မူ
ပါ၊အကျွန်ုပ်အော်ဟစ်သောအသံကိုနားထောင်
တော် မူပါ၊ အကျွန်ုပ် မျက်ရည်ကို ကြည့်၍ ရှု
တော်မမူပါနှင့်၊ ထိုးဘေးအလေါင်းတို့သည်ဖြစ်
ဘူး သကဲ့သို့၊ အကျွန်ုပ်သည် ရှေ့တော်၌ ဧည့်
၁၃ သည် အာဂန္တုဖြစ်ပါ၏။- အကျွန်ုပ်သည် ရှေ့
သွား၍ မပျောက်မီတွင်၊ အား ရ စေ မည် အ
ကြောင်း၊ မျက်နှာလွှဲတော်မူပါ။

၄၀

၁ ငါသည် ထာဝရ ဘုရား ကို ရှေ့ရှေ့ မျှော် လင့်
သည် ကာလ၊ ငါ့ကို မျက်နှာ ပြု၍၊ ငါအော်ဟစ်
၂ သောအသံကိုကြားတော်မူ၏။- ဖွတ်မီးရာတွင်း
နှင့်အညွန့်ဆိုးသော ရွံ့ထဲကငါ့ကို ဆယ်နှုတ်ပြီး
လျှင်၊ ငါ့ခြေတို့ကိုကျောက်ပေါ်မှာတင်၍၊ ငါ့ခြေ
၃ ရာတို့ကိုတည်စေတော်မူ၏။- ထိုသို့ငါတို့ဘုရား
အစင်ကိုချီးမွမ်းရာ သီခြင်း သစ်ကို ငါ့နှုတ်၌ရှိ
စေခြင်းငှါ အခွင့် ပေးတော်မူ၏၊ လူများတို့သည်
သိ မြင်၍၊ ကြောက် ရွံ့ သော စိတ် နှင့် ထာဝရ
၄ ဘုရား ကို ကိုး စား ကြလိမ့် မည်။- ထာဝရ အထောင်

ဖွဲ့သောဘုံနှင့်၊ မိစ္ဆာတရားထံသို့ လွှဲသွားသောသူထိုကိုမမှီဝဲ၊ ထာဝရဘုရားကို ကိုးစားသောသူသည်မင်္ဂလာရှိ၏။

၅ အကျွန်ုပ်၏ဘုရားသခင် ထာဝရဘုရား၊ အကျွန်ုပ်တို့အဖို့ပြုတော်မူသော ဖံ့ဖြိုးထွန်းအမှုတို့နှင့် ကြံစည်တော်မူသော အကြံအစည်တို့သည် များလှပါ၏။ ရှေ့တော်၌ အစဉ်အတိုင်းလျှောက်၍ မကုန်နိုင်ပါ။ အကျွန်ုပ် ထုတ်ဖော်ပြောမည်ဟု ဆိုသော်၊ ရေတွက်၍ မကုန်နိုင်အောင်များလှပါ၏။

၆ ကိုယ်တော်သည် ယဇ်နှင့် ပူဇော်သက္ကာကို အလိုတော်မရှိသည်ဖြစ်၍၊ အကျွန်ုပ်နားကိုဖွင့်တော်မူပြီ။ မီးရှို့ရာယဇ်နှင့် အပြစ်ဖြေရာ ယဇ်

၇ များကိုတောင်းတော်မမူသောအခါ၊- ကျမ်းစာလိပ်၌ အကျွန်ုပ်ကိုအမှတ်ပြု၍ ရေးထားသည်နှင့်အညီ၊ အကျွန်ုပ်သည်သွားပါမည်ဟုဝန်ခံပါ

၈ ၏။- အကျွန်ုပ်၏ဘုရားသခင်၊ ကိုယ်တော်၏အလိုကို ဆောင်ရာ၌၊ အကျွန်ုပ်သည် အားရဝမ်းမြောက်ပါ၏။ ကိုယ်တော်၏ တရားသည်လည်း၊

၉ အကျွန်ုပ်နှလုံးထဲမှာရှိပါ၏။- ဖြောင့်မတ်ခြင်းတရားကို ပရိသတ်ကြီး အလယ်မှာ အကျွန်ုပ်ဟောပါပြီ။ အိုထာဝရဘုရား၊ အကျွန်ုပ် သည် ကိုယ်နှုတ်ကိုပိတ်၍မနေကြောင်းကို၊ ကိုယ်တော်

၁၀ သိတော်မူ၏။- ဖြောင့်မတ်သောစီရင်တော်မူခြင်းတရားကို အကျွန်ုပ် သည် ကိုယ်နှလုံး ထဲမှာဝှတ်၍မထားပါ။ သစ္စာစောင့်တော်မူခြင်းတရားနှင့်ကယ်တင်တော်မူခြင်းတရားကိုဟောပြောပါပြီ။ ကရုဏာတော်နှင့်သစ္စာတော်ကို ပရိသတ်ကြီးအလယ်မှာမထိမ်မဝှက်ပါ။

၁၁ အို ထာဝရဘုရား၊ အကျွန်ုပ်၌ သနားစုံမက်တော်မူခြင်း စိတ်ကို မချုပ်တည်းပါနှင့်။ ကရုဏာတော်နှင့် သစ္စာတော်သည် အကျွန်ုပ်ကိုအ

၁၂ စဉ်စောင့်မပါစေသော။- အကြောင်းမူကား၊ အတိုင်းမသိများစွာသော ဘေးဥပါဒ်တို့သည်အကျွန်ုပ်ကိုဝိုင်းကြပါပြီ။ အကျွန်ုပ်မျှော်၍မကြည့်နိုင်အောင်ခံရသောအပြစ်တို့သည် အကျွန်ုပ်ကို မှီကြပါပြီ။ အကျွန်ုပ်ဆံပင်ထက်များပြား သည်ဖြစ်၍၊ အကျွန်ုပ်နှလုံးသည်အားလျော့ပါပြီ။-

၁၃ အိုထာဝရဘုရား၊ အကျွန်ုပ်ကို နှုတ်ယူခြင်းငှါ အလိုရှိတော်မူပါ။ အိုထာဝရဘုရား၊ အကျွန်ုပ်

၁၄ ကိုမစခြင်းငှါ အလျင်အမြန် ပြုတော်မူပါ။- အကျွန်ုပ် အသက်ကိုသတ်ခြင်းငှါ၊ ရှာကြံသောသူ အပေါင်းတို့သည်အရှက်ကွဲ၍ မျက်နှာပျက်ကြပါစေသော။ အကျွန်ုပ်၌အန္တရာယ်ပြုချင်သောသူတို့သည်ဆုတ်ခြင်းကိုခံရ၍၊ ရှက်ကြောက်ခြင်းသို့

၁၅ ရောက်ကြပါစေသော။- အကျွန်ုပ်ကို အေ့အေ့ဟေ့ဟေ့ဟု ဆိုသော သူတို့သည် အရှက်ကွဲခြင်း

၁၆ အားဖြင့်မှိုင်တွေကြပါစေသော။- ကိုယ်တော်ကို ရှာသောသူအပေါင်းတို့သည် ကိုယ်တော်၌ဝမ်းမြောက်ရွှင်လန်းကြပါစေသော။ ကယ်တင်တော်မူခြင်း ကျေးဇူးကို နှစ်သက် သော သူတို့ သည် ထာဝရဘုရားဘုန်းကြီးတော်မူစေသတည်းဟု၊ အစဉ်မပြတ်ပြောကြပါစေသော။

၁၇ အကျွန်ုပ်မူကား၊ ဆင်းရဲငတ်မွတ်သော်လည်း၊ ထာဝရဘုရားသည်အကျွန်ုပ်ကိုအောက်မေ့တော်မူ၏။ ကိုယ်တော်သည်အကျွန်ုပ်ကိုမစသောသူ၊ ကယ် တင် သောသူ ဖြစ် တော် မူ၏။ အကျွန်ုပ်၏ ဘုရားသခင်၊ ဆိုင်းလင့်တော်မမူပါနှင့်။

၄၁

၁ ဆင်းရဲသောသူကို အောက်မေ့သောသူသည် မင်္ဂလာရှိ၏။ ခဲယဉ်းသော ကာလ၌ ထိုသူကို

၂ ထာဝရဘုရားကယ်နှုတ်တော်မူမည်။- ထာဝရဘုရား သည် စောင့်မ၍ အသက် ချမ်းသာ ပေးတော်မူသဖြင့်၊ ထိုသူသည်ပြည်တော်၌ ကောင်းကြီးမင်္ဂလာကို ခံရလိမ့်မည်။ ထိုသူကိုရန်သူတို့

၃ အလိုသို့ကိုယ်တော် သည်အပ်တော်မမူပါ။- သူ သည်နာဖျား၍ တုံးလုံး နေသော အခါ၊ ထာဝရဘုရားသည် ထောက်ပင့် တော်မူမည်။ နာ၍နေစဉ်ကာလ၊ ကိုယ်တော်သည် သူ၏အိပ်ရာရှိသမျှကိုဖွာန်ပြန်တော်မူမည်။

၄ ငါလျှောက်ဆိုရသည်ကား၊ အိုထာဝရဘုရား၊ အကျွန်ုပ်ကို သနား တော်မူပါ။ အကျွန်ုပ်သည် ကိုယ်တော်ကိုပြစ်မှားမိသည်ဖြစ်၍၊ အကျွန်ုပ်၌ စိတ်ဝိညာဉ်၏အနာကို ပျောက်စေတော်မူပါဟု

၅ လျှောက်ဆို၏။- ရန်သူတို့က၊ သူသည်အဘယ် သူ၏နာမသည် အဘယ်ကာလမှ တိမ်မြုပ် ပျောက်မည်နည်းဟု၊ ငါ့ကိုမနာလို၍ ဆိုတတ်ကြ၏။-

၆ ငါ့ကို ကြည့်လာ သော သူသည် မုသာ စကားကို ပြောတတ်၏၊ သူ၏နှလုံးသည်လည်းမကောင်းသောအကြံကို ထည်းပူးသည်နှင့်၊ ထွက်သွား

၇ သောအခါထုတ်ဖော်၍ပြောတတ်၏။- ငါ့ကိုမုန်းသော သူအပေါင်းတို့ သည် ငါ့ကိုရန်ဘက် ပြု၍၊ တယောက်နှင့်တယောက် တိုးတိုးပြောလျက်၊ ငါ၌ မကောင်းသော အကြံကို ကြံစည် တတ်ကြ

၈ ဆိုး– လူ၌အဓမ္မအမှုအရာစွဲကပ်သည်ဖြစ်၍၊တ
၉ ခါထဲလျှင်နောက်တဖန် မထရတုဆိုကြ၏။– အ
ကယ်စင်စစ် ငါယုံ၍၊ ငါ့မုန့်ကို စားသော အဆွေ
ခင်ပွန်းသည်ငါ့ကိုခြေနှင့်ကျောက်သတည်း။
၁၀ အိုထာဝရဘုရား၊ သူတို့အပြစ်ကို အကျွန်ုပ်
ဆပ်ပေးနိုင်မည်အကြောင်း၊ အကျွန်ုပ်ကိုသနား
၁၁ ၍ထမြောက်စေတော်မူပါ။– အကျွန်ုပ်၏ရန်သူ
သည် အကျွန်ုပ်အားမနိုင်ကြောင်းကို ထောက်
၍၊ ကိုယ်တော်သည် အကျွန်ုပ်ကိုမြတ်နိုးတော်မူ
၁၂ သည်ဟုသိရပါ၏။– ကိုယ်တော်သည်အကျွန်ုပ်
ကို အကျွန်ုပ်စုံလင်ခြင်းအရာ၌မစ၍၊ ကာလအ
စည် အဆက် ရှေ့တော် ထံမှာ နေရာ ပေးတော်မူ
သတုံ့။
၁၃ ဣသရေလ အမျိုး၏ ဘုရားသခင် တည်း ဟူ
သော၊ ထာဝရဘုရားသည်ကမ္ဘာအဆက်ဆက်
မင်္ဂလာ ရှိတော်မူစေသတည်း။ အာမင်နှင့် အာ
မင်။

၄၂

၁ အမင်းဒရယ်သည် ရေစီးသော ချောင်းကို
တောင့်တသကဲ့သို့၊အကျွန်ုပ်ဝိညာဉ်သည်ကိုယ်
၂ တော်ကိုတောင့်တပါသည် ဘုရား။– ငါ့ဝိညာဉ်
သည် ဘုရားသခင် တည်းဟူသော အသက်ရှင်
တော်မူသော ဘုရားကိုငတ်သ၏။ အဘယ်ကာ
လ၌ ဘုရားသခင်ထံတော်သို့ရောက်၍ မျက်နှာ
၃ ဖြရဖို့နည်း။– သူတပါး တို့က၊ သင်၏ဘုရား
သခင်သည်အဘယ်မှာရှိသနည်းဟုငါ့ကိုအစဉ်
ပြောဆိုကြသဖြင့်၊ မျက်ရည်သည်နေ့ညဉ့်မ
၄ ပြတ်ငါစားစရာဖြစ်ရ၏။– ထိုအခြင်းအရာကိုငါ
အောင်းမေ့၍ နေစဉ်တွင်၊ ငါ့စိတ် နှစ်လုံးသည်
ကြေကွဲလျက်ရှိ၏။ အကြောင်းမူကား၊ ငါသည်
လူစုများနှင့် ပေါင်းဖော်လျက်၊ ရွှင်လန်းခြင်း
အသံ၊ ထောမနာပြုခြင်း အသံတို့ကို ပြုင်ဆို၍၊
ခွ ပွဲခံသော လူစုများနှင့် အတူ ဘုရားသခင်
၏အိမ်တော်သို့ဖြည်းညှင်းစွာ သွားလာလေပြီ။–
၅ အိုငါ့ဝိညာဉ်၊သင်သည်အဘယ်ကြောင့်ညှိုးငယ်
သနည်း။ ငါ့အထဲမှာအဘယ်ကြောင့်မငြိမ်မဝပ်
ရှိသနည်း။ ဘုရားသခင်ကို မျှော်သင့် လျက်နေ
လော့။ ငါ့ကိုကယ်တင်တော် မူသော အရှင်၊ ငါ
ကိုးကွယ်သောဘုရားသခင်၏ ကျေးဇူးတော်ကို
ငါချီးမွမ်းထောမနာပြုရလေဦးမည်သတည်း။
၆ အကျွန်ုပ်စိတ်ဝိညာဉ်သည်အကျွန်ုပ်အထဲမှာ
ညှိုးငယ်လျက်ရှိပါ၏။ အကြောင်းမူကား၊ယော်

ဒန်မြစ်ကမ်း၊ ဟေရမုန် တောင်ရိုး၊ မိဇာရကုန်း
ပေါ်မှာ ကိုယ်တော်ကို အကျွန်ုပ်အောင်းမေ့ ပါ
၇ ၏။– ရေအွတော်များ အသံမြည်နှင့်တကွ ဝဲပြ
ဿတစုကို တစုဟစ်ခေါ်၍ လှိုင်းတံပိုးတော် အ
ပေါင်းတို့သည် အကျွန်ုပ်ကို လွှမ်းမိုးကြပါပြီ။–
၈ ထိုသော်လည်း၊ထာဝရဘုရားသည်နေ့အခါသ
နား ခြင်း ကျေးဇူး တော်ကို ပေးစေတော် မူ၏။
ညဉ့် အခါ၌ လည်း ဂုဏ်တော်ကို သီခြင်း ဆို
လျက်၊ ငါ၏အသက်သခင်ကို ပဌနာပြုလျက်ငါ
၉ နေ၏။– အကျွန်ုပ်ကို အဘယ်ကြောင့် မေ့လျော့
တော်မူသနည်း။ ရန်သူညှဉ်းဆဲ နှိပ်စက် ခြင်း
ကိုခံရ၍၊ အကျွန်ုပ်သည် ကြွမ်းတမ်းသော အ
ဝတ်ကိုဝတ်လျက်၊ အဘယ်ကြောင့် နေရပါသ
နည်းဟု၊ငါ၏ကျောက်ဖြစ်သောဘုရားသခင်ကို
၁၀ ငါလျှောက်ရ၏။– ငရန်သူတို့က၊ သင်၏ဘုရား
သခင်သည် အဘယ်မှာ ရှိသနည်းဟု၊ ငါ့ကိုအ
စဉ်ပြောဆိုကြသဖြင့်၊ငါ့အရိုးတို့ကိုရိုက်၍ကွဲမျှ
၁၁ တတ်ကြ၏။– အိုငါ့ဝိညာဉ်၊ သင်သည် အဘယ်
ကြောင့် ညှိုးငယ် သနည်း။ ငါ့အထဲမှာ အဘယ်
ကြောင့် မငြိမ်မဝပ် ရှိသနည်း။ ဘုရားသခင်ကို
မျှော်သင့်လျက်နေလော့။ ငါ့ကိုကယ်တင်တော်မူ
သော အရှင်၊ ငါကိုးကွယ်သော ဘုရား သခင်၏
ကျေးဇူးတော်ကို ငါချီး မွမ်း ထောမနာပြုရလေ
ဦးမည်သတည်း။

၄၃

၁ အိုဘုရား သခင်၊ အကျွန်ုပ်အမှု၌ တရား ဆုံး
ဖြတ် တော် မူပါ။ ကရုဏာ မရှိ သော လူမျိုးတ
စက်ကနေ၍၊ အကျွန်ုပ်အမှုကိုစောင့်တော်မူပါ။
သစ္စာမရှိ၊ မတရားသောသူ၏ လက်မှ အကျွန်ုပ်
၂ ကိုကယ်လွှတ်တော်မူပါ။– ကိုယ်တော်သည် အ
ကျွန်ုပ်ခိုလှုံရာဘုရားဖြစ်တော်မူ၏။ အကျွန်ုပ်ကို
အဘယ်ကြောင့် စွန့်ပြစ်တော် မူသနည်း။ ရန်သူ
ညှဉ်းဆဲ နှိပ်စက်ခြင်းကိုခံရ၍၊အကျွန်ုပ်သည်
ကြမ်းတမ်းသောအဝတ်ကိုဝတ်လျက်အဘယ်
၃ ကြောင့်နေရပါသနည်း။– အလင်းတော် နှင့်
သစ္စာတော်ကို စေလွှတ်တော်မူပါ။ သူတို့ သည်
ထမ်းဖြ၍၊ သန့်ရှင်းသော တောင် တော်သို့ ၎င်း၊
ထဲတော် သို့ ၎င်း အကျွန်ုပ် ကို ပို့ ဆောင် ပါ စေ
၄ သော။– သို့ပြုလျှင် ဘုရားသခင်၏ ယဇ်ပလ္လင်
သို့၎င်း၊အကျွန်ုပ်ဝမ်းမြောက်ရွှင်လန်းရာဘုရား
သခင်ထံတော်သို့၎င်း၊အကျွန်ုပ်သည်ရောက်ထား
၍၊ကိုယ်တော်ကိုစောင်းတီးလျက်ချီးမွမ်းထော

၅ မနာပြူပါမည်ဘုရား၊အကျွန်ုပ်၏ဘုရား။-အိုငါ့
ညညီ၊ သင်သည် အဘယ် ကြောင့် ညှိုးငယ်သ
နည်း။ ငါ့အထဲမှာအဘယ်ကြောင့် မငြိမ်မဝပ်ရှိ
သနည်း။ ဘုရား သခင် ကို မျှော် လင့် လျက် နေ
လော့။ငါ့ကိုကယ်တင်တော်မူသောအရှင်၊ငါ၏
ကွယ်သော ဘုရားသခင်၏ ကျေးဇူး တော်ကိုငါ
ချီး မွမ်းဦးမည်လော့ ရလေအံ့သတည်း။

၄၄

၁ အိုဘုရားသခင်၊ရှေးလွန်လေပြီးသောကာလ
တွင်၊ ဘိုးဘေးတို့ လက်ထက်၌ ပြုတော် မူသော
အမှုကိုသူတို့ပြော၍၊အကျွန်ုပ်တို့သည်ကိုယ်တိုင်
၂ ကြားရကြပါပြီ။- တပါးအမျိုးသားတို့ကိုလက်
တော်ဖြင့် နှင်ထုတ်၍၊ အကျွန်ုပ် တို့၏ ဘိုးဘေး
များကို နေရာချတော်မူ၏။ တပါး အမျိုးသားတို့
ကိုနှိပ်စက်၍၊ ဘိုးဘေးများကို ပြန့်ပွားစေတော်
၃ မူ၏။- သူတို့သည်ကိုယ်ထား့ဖြင့်ထိုမြေကိုအမွေ
ရကြသည်မဟုတ်ပါ။ ကိုယ်လက်ဖြင့်ကိုယ်ကို
ကယ်တင်ကြသည်မဟုတ်ပါ။ကိုယ်တော်အလို
ရှိသော့ကြောင့်၊ လက်ျာလက်ရုံးတော်နှင့် မျက်
နှာတော် အလင်း အားဖြင့် သူတို့ကို ကယ် တင်
၄ တော်မူ၏။-အိုဘုရားသခင်၊ကိုယ်တော်သည်အ
ကျွန်ုပ်၏ရှင်ဘုရင်ဖြစ်တော်မူ၏။ယာကုပ်အမျိုး
၏ ကယ် တင် ခြင်း အ ကြောင်း ကို စီရင်တော်မူ
၅ ပါ။-ကိုယ်တော်အားဖြင့် အကျွန်ုပ်တို့သည်ရန်
သူများကို တွန်းချကြ ပါ စေသော။ ရန်ဘက်ပြု
သောသူတို့ကို နာမတော်အားဖြင့်နင်းရသောအ
၆ ခွင့်ရှိကြပါစေသော။- ကိုယ်၌ပါသော လေးကို
အကျွန်ုပ် သည် မကိုးစား။ ကိုယ် ထားသည် အ
၇ ကျွန်ုပ်ကိုမကယ်ရပါ။-ကိုယ်တော်သာလျှင်အ
ကျွန်ုပ်တို့ကိုရန်သူလက်မှ ကယ်လွှတ်တော်မူ၏။
အကျွန်ုပ်တို့အား မုန်းသောသူများကိုလည်းအ
၈ ရှက်ကွဲစေတော်မူ၏။-အကျွန်ုပ်တို့သည်မခြားမ
လပ်ဘုရားသခင်၌ ဝါကြွား၍၊ နာမတော်ကိုအ
စဉ်အမြဲချီး မွမ်းကြပါ၏။
၉ သို့သော်လည်း၊ ကိုယ် တော် သည် အကျွန်ုပ်
တို့ကို စွန့် ပြစ် ၍ အရှက် ကွဲ စေ တော် မူ ပြီ။ အ
၁၀ ကျွန်ုပ်တို့ဗိုလ်ခြေနှင့်အတူကြွတော်မမူပါ။- အ
ကျွန်ုပ်တို့ကိုရန်သူရှေ့မှာ ပြန်ပြေးစေတော်မူ၍၊
မုန်းသော သူတို့သည် အလိုလို လုယူ ရကြ၏။-
၁၁ ဟင်းလျာ ဖြစ်သော သိုးများကဲ့သို့ အကျွန်ုပ်တို့
ကို အပ်လိုက်၍၊တပါးအမျိုးသားတို့တွင်အရပ်
၁၂ ရပ်တွဲပြားစေတော်မူ၏။- ကိုယ်တော်၏လူများ
ကိုအဘိုးမခံဘဲ ရောင်း၍၊ ရောင်းသော အားဖြင့်
စီးပွားတော်ကိုတိုးပွားစေတော်မူသည်မဟုတ်။-
၁၃ အကျွန်ုပ်တို့ကိုအိမ်နီးချင်းများကဲ့ရဲ့ရာပတ်ဝန်း
ကျင်၌ နေသောသူများဟက်ရယ်ပြု၍၊ အရှက်ခွဲ
၁၄ ရာဖြစ်စေခြင်းငှါ စီရင်တော် မူ၏။- တပါးအမျိုး
သားတို့သည် အကျွန်ုပ် တို့ကို ပုံခိုင်းရသော အ
ခွင့်၊ လူစုတို့သည်ခေါင်းညိတ်ရသော အခွင့်ကို
၁၅ ပေးတော်မူ၏။- ကဲ့ရဲ့သောသူနှင့် အသရေဖျက်
၁၆ သောသူ၏စကားကြောင့်၎င်း၊ ရန်ဘက် ပြုသော
သူနှင့်လက်စားချေသော သူ၏ မျက်နှာ ကြောင့်
၎င်း၊ အကျွန်ုပ် သည် ကိုယ် အ ရှက် ကွဲ ခြင်း အ
ကြောင်းကို အစဉ်မျက်မှောက်ပြုရပါ၏။ မျက်
နှာရှက်ခြင်းအားဖြင့်မွန်းလျက်နေရပါ၏။
၁၇ ထိုမျှလောက် ခံရ သော် လည်း၊ အကျွန်ုပ် တို့
သည်ကိုယ်တော်ကိုမမေ့လျော့။ သစ္စာတော်ကို
၁၈ မဖျက် ကြ ပါ။- စိတ် နှလုံးသည် နောက် သို့ မ
ဆုတ်၊ တရားတော်လမ်းမှလွှဲ၍ မသွားကြ ပါ။-
၁၉ ကိုယ်တော် မူ ကား၊ မြေခွေး နေရာ အရပ်မှာ အ
ကျွန်ုပ် တို့ကို ချိုးဖဲ့ နှိပ်စက်၍၊ သေ ခြင်း အရိပ်
၂၀ နှင့်ဖုံးလွှမ်းတော်မူ၏။- အကျွန်ုပ်တို့သည်ကိုယ်
ဘုရားသခင်၏ နာမတော်ကို မေ့လျော့၍၊ တပါး
အမျိုး၏ဘုရားထံသို့လက်ကိုဆန့်သည်မှန်လျှင်-
၂၁ နှလုံး၌ ဝှက်ထား သော အရာ များကို ဘုရား
သခင်သိတော်မူသည်ဖြစ်၍၊ ထိုအမှုကိုမစစ်ဘဲ
၂၂ နေ တော် မူမည် လော။- အကယ် စင်စစ် ကိုယ်
တော်အတွက် အကျွန်ုပ် တို့သည်အစဉ်မပြတ်
အသေသတ်ခြင်းကိုခံရကြပါ၏။သတ်ဖို့ရာထား
သော သိုးကဲ့သို့၊ အကျွန်ုပ် တို့ကို သူတပါး မှတ်
တတ်ကြပါ၏။
၂၃ အိုဘုရားရှင်၊ နိုးတော်မူပါ။ အဘယ်ကြောင့်
ကျိန်း စက် တော် မူသနည်း။ ထတော် မူပါ။ အ
၂၄ ကျွန်ုပ်တို့ကိုအစဉ် စွန့်ပြစ်တော်မမူပါနှင့်။-အ
ကျွန်ုပ်တို့ ခံရသော ညှိမ်ချခြင်းနှင့်ညှဉ်းဆဲခြင်း
ကိုမျက်နှာတော်လွှဲ၍၊အဘယ်ကြောင့်မေ့လျော့
၂၅ တော်မူ သ နည်း။- အကျွန်ုပ် တို့၏ စိတ် ဝိညာဉ်
သည် မြေ တိုင် အောင် နှိမ့်ချ ခြင်းကို ခံရ၍၊ ရင်
၂၆ ပတ်သည်း မြေ၌ ကပ် လျက် ရှိပါ၏။- အကျွန်ုပ်
တို့ကို မစ သော ဘုရား၊ ထတော် မူပါ။ ကရုဏာ
တော်နှင့်အညီရွေးနှုတ်တော်မူပါ။

**၄၅**

၁ **ငါ့စိတ်နှလုံးသည် မင်္ဂလာစကားနှင့်ပွက်ထ**
**လျက်ရှိ၍၊ ငါစီရင်သော အရာကို ရှင်ဘုရင်ရှေ့**

တော်၌ရှိသည်ဆိုပေဆုံးလျှောသည်ထည်ထိမှာ
၂ ကျော်ကြွင်းသောစာရေးဆရာ၏ကညာ်ဖြစ်ရ၏။ ကိုယ်
တော်သည် လူမျိုးထက် အဆင်း လှပါ၏။ နှုတ်
တော်သည်ကျေးဇူးစကားနှင့်ပြည့်စုံပါ၏။ ထို
ကြောင့်ဘုရားသခင်သည်ကိုယ်တော်ကိုအစဉ်
၃ အမြဲ ကောင်းကြီး ပေးတော်မူ၏။— တန်ခိုး ကြီး
သောအရှင်၊ဘုန်းအသရေတော်ဖြစ်သောကိုယ်
တော်၏ ထားကိုပေါင်တော်၌ စည်းတော် မူပါ။—
၄ သစ္စာတရား၊နှိမ့်ချခြင်းတရား၊ ဖြောင့်မတ်ခြင်း
တရားကြောင့်၊ အသရေတော် ထင်ရှား လျက်၊
အောင်မြင်၍ စီးသွားတော်မူပါ။ လက်ျာလက်
တော်သည်၊ ကြောက်မက်ဖွယ်သော အရာ ကို
၅ ကိုယ်တော်အားပြပါလိမ့်မည်။—ရှင်ဘုရင်၏ရန်
သူထို့ နှလုံး ထဲမှာ မြားတော် ထို့ သည် ထက်
သည်ဖြစ်၍၊ လူတို့သည် ခြေတော်အောက်၌လဲ
၆ ကြပါ၏။— အိုဘုရားသခင်၊ကိုယ်တော်၏ပလ္လင်
သည်နိစ္စထာဝရပလ္လင်ဖြစ်ပါ၏၊ ကိုယ်တော်၏
နိုင်ငံသည် တရားသဖြင့် စီရင်သော နိုင်ငံ ဖြစ်ပါ
၇ ၏။— ကိုယ်တော်သည်ဖြောင့်မတ်ခြင်းတရားကို
နှစ်သက်၍၊မတရားသောအမှုကိုရန်တော်မူ၏။
ထိုကြောင့် အိုဘုရားသခင်၊ ကိုယ်တော်၏ဘုရား
သခင် သည် ကိုယ် တော်၏ အပေါင်း အဖော်တို့
ထက်၊ ကိုယ်တော်ကိုရွှင်မြူးခြင်း ဆီနှင့်
၈ ဘိသိက်ပေးတော်မူပြီ။— ဆင်စွယ်
ဘုံ မိဖ် ဗိမာန် ထဲက ထွက်သော အဝတ် တန် ဆာ
တော် မှီသမျှတို့သည် မုရန်၊ အကျော်၊ သစ်ကြံ
ပိုး အမွှေးနှင့်ပြည့်စုံ၍၊ နှစ်သက်တော်မူဖွယ်ဖြစ်
၉ ကြပါ၏။— အမြည့်ပြည့်သော မင်းသမီး တို့သည်
မောင်းမ မိဿံအဝင်ဖြစ်၍၊ လက်ျာတော် ဘက်
မှာဩဖိရ ရွှေတန်ဆာ ဆင်သော မြောက်သား
တော် နေရာဖြစ်ပါ၏။
၁၀ ငါ့သမီး၊ နား ထောင် လော့၊ ဆင်ခြင် ၍ နား ထူ
ထောင်လော့။ ကိုယ်အမျိုး သား ချင်းနှင့် ကိုယ် အဖ၏
၁၁ အိမ်ကိုမေ့လျော့လော့။— သို့ပြုလျှင်သင်တင့်တယ်သော
အဆင်းကို ရှင်ဘုရင်သည် နှစ်သက် တော်မူ
မည်။ သူသည် သင်၏ အရှင် ဖြစ်သော ကြောင့်
၁၂ သူကိုကိုးကွယ်လော့။— တုရုမင်းသမီးမှစ၍၊လူ၌
အစွမ်းဥစ္စာရတတ်သောသူတို့သည်လည်း၊ လက်
ဆောင် ပဏ္ဏာ ပါလျက် သင့် ကို ချော့မော့ရကြ
လိမ့်မည်။
၁၃ ရှင်ဘုရင်၏သမီးတော်သည်အတွင်း၌ဂုဏ်အ
သရေသတ်သတ်ရှိ၏။ ရွှေဖြင့် ရက်လုပ်သော
၁၄ အဝတ် တန် ဆာကို ဆင်၍— ရှင်ဘုရင်ထံသို့ဆောင်ခဲ့ရ၏။ နောက်လိုက်သော
အပေါင်းအဖော်အပျိုတော်များကိုလည်း၊ ကိုယ်
၁၅ တော်ထံသို့ ထွင်းရလိမ့်မည်။— ဝမ်းမြောက် ရွှင်
လန်းသော အခြင်း အရာ နှင့် ဆောင် ခဲ့၍၊ ရှင်
၁၆ ဘုရင်၏နန်းတော်သို့ ဝင်ရကြလိမ့်မည်။— ကိုယ်
တော်၏အဘများကိုယ်စား၊သားများကိုရ၍ မြေ
ကြီးတပြင်လုံး၌ မင်းအရာ၌ ခန့်ထားတော်မူ
၁၇ လိမ့်မည်။— အကျွန်ုပ်သည် ကိုယ်တော်၏ နာမ
ကိုလူမျိုးအစဉ် အဆက် အောင်းမေ့စေခြင်းငှာ
ဖော်ပြခြင်း၊ လူမျိုးတို့သည်ထာဝရ အဆက်ဆက်
ကိုယ်တော်ကိုချီးမွမ်းကြလတံ့သတည်း။

၄၆

၁ ဘုရားသခင်သည် ငါတို့ခိုလှုံရာ ဖြစ်၍၊ နှုန်
အားကိုပေးတော်မူ၏။ဆင်းရဲသည်ကာလ
အထူး သဖြင့် ကူမ တော် မူ ကြောင်း၊ ထင် ရှား
၂ လျက်ရှိ၏။— ထိုကြောင့်ပထဝီမြေကြီးသည်ရွေ့
သွား၍၊တောင်များတုန်လှုပ်လျက်သမုဒ္ဒရာထဲသို့
ကျသော်လည်း၊ ငါတို့သည် ကြောက်လန့်ခြင်း
၃ မရှိ။— သမုဒ္ဒရာရေသည် ထန်းထန်းမြည်၍ နှော
နှောက်ပါစေ၊ လှိုင်းတံပိုးထသဖြင့် တောင်
၄ များတုန်လှုပ်ပါစေ။— မြစ်တမြစ်ရှိသေး၏။
ထိုမြစ်ရေသည် စီး၍၊ ဘုရားသခင်၏ မြို့တည်း
ဟူသောအမြင့်ဆုံးသောဘုရား၏ဝိဇ္ဇာတော်
ရှိရာ၊ သန့်ရှင်းသော မြို့တော် ကို ရွှင်လန်းစေ
၅ တတ်၏။— ထိုမြို့သည် ဘုရားသခင် ကျိန်း ဝပ်
တော်မူရာဖြစ်၍၊ တုန်လှုပ်ခြင်း မရှိရာ။ မိုးသောက်
သောတက်ထင်းစ၌ ဘုရားသခင် ကူမတော်မူလိမ့်
မည်။
၆ လူမျိုးတို့သည် ထန်းထန်းမြည်ကြ၏။ တိုင်း
နိုင်ငံ တို့ သည် လှုပ် ရှား ကြ ၏။ မှာဖိတ် သံကို
ဖွင့်တော်မူ၍၊မြေကြီးသည်အရည်ဖြစ်လေ၏။—
၇ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားသည်
ငါ တို့နှင့် အတူ ရှိတော်မူ၏။ ယာကုပ် အမျိုး၏
ဘုရားသခင်သည်ငါတို့ခိုလှုံရာဖြစ်တော်မူ၏—
၈ ထာဝရဘုရား၏ပြုတွင်၍မြေကြီးပေါ်မှာထူးထူး
ဆန်းဆန်းဖျက်ဆီးခြင်းအမှုတော်များကိုလာ၍ကြည့်
၉ ရှုကြလော့။— လေးကိုချိုးလျက်၊ လှံကိုအပိုင်း
ပိုင်းဖြတ်လျက်၊ ရထားကို မီးရှို့လျက်၊ မြေကြီး
စွန်းတိုင်အောင် စစ်မှုကို ငြိမ်းစေတော်မူ၏—
၁၀ ငြိမ်ဝပ်လျက်နေကြလော့။ ငါကားဘုရားသခင်
ဖြစ်သည်ကိုသိမှတ်ကြလော့။ လူမျိုးတို့တွင်၎င်း

သည် ဘုန်းပွင့်မည်၊ မြေကြီးပေါ်မှာ ဘုန်းပွင့်
၁၁ မည်။-ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား
သည် ငါတို့နှင့် အတူ ရှိတော်မူ၏၊ ယာကုပ်၏
ဘုရားသခင်သည်ငါတို့ခိုလှုံရာဖြစ်တော်မူ၏။

၄၇

၁ လူများအပေါင်းတို့၊လက်ခုပ်တီးကြလော့၊
ဘုရားသခင် ထံသို့ အောင်သံ ကိုလွှင့်၍ ကြွေး
၂ ကြော်ကြလော့။-အကြောင်းမူကား၊အမြင့်ဆုံး
သော ထာဝရ ဘုရားသည် ကြောက်မက် ဖွယ်
သောဘုရား၊မြေကြီးတပြင်လုံးကိုအစိုးရသော
၃ မဟာမင်းကြီးဖြစ်တော်မူ၏။- လူစုတို့ကို ငါတို့
အောက်၌၎င်း၊ လူမျိုးတို့ကို ငါတို့ခြေအောက်၌
၄ ၎င်းနှိမ့်ချတော်မူ၏။-ချစ်တော်မူသောယာကုပ်၏
ဘုန်းဖြစ်သောငါတို့အမွေကိုငါတို့အဖို့ရွေးပေး
တော်မူ၏။
၅ ကြွေးကြော်ခြင်းအသံနှင့် ဘုရားသခင်တက်
တော်မူ၏၊ တံပိုးမှုတ်ခြင်းအသံနှင့် ထာဝရ
၆ ဘုရားတက်တော်မူ၏။-ဘုရားသခင်ကိုချီးမွမ်း
၍သီခြင်းဆိုကြလော့၊ သီခြင်းဆိုကြလော့၊ ငါ
တို့၏ရှင်ဘုရင်ကိုချီးမွမ်း၍သီခြင်းဆိုကြလော့၊
၇ သီခြင်းဆိုကြလော့၊-အကြောင်းမူကား၊ဘုရား
သခင်သည် မြေကြီးတပြင်လုံးကို အစိုးရသော
မင်းဖြစ်တော်မူ၏၊ ချီးမွမ်းခြင်း ထောမနာသီ
၈ ခြင်းကိုဆိုကြလော့၊-ဘုရားသခင်သည်လူမျိုး
တို့တွင် မိုးစံတော်မူ၏၊ ဘုရားသခင်သည် သန့်
ရှင်းသော ပလ္လင်တော်ပေါ်မှာ ထိုင်တော်မူ၏။-
၉ လူမျိုးတို့၏ အကြီးအကဲတို့သည် အာဗြဟံ ကိုး
ကွယ်သော ဘုရားသခင် ၏ လူမျိုး ထံမှာ စုဝေး
လျက်ရှိကြ၏၊ အကြောင်းမူကား၊ မြေကြီးတန်
ခိုးများကို ဘုရားသခင်ပိုင်တော်မူ၏၊ အထူးသ
ဖြင့် ချီးမြှောက်ခြင်းရှိတော်မူ၏။

၄၈

၁ ထာဝရဘုရားသည်ကြီးမြတ်တော်မူ၏၊ သန့်
ရှင်းသောတောင်တော်ပေါ်မှာငါတို့ဘုရားသခင်
၏မြို့တော်တွင်၊ အထူးသဖြင့်ထောမနာချီးမွမ်း
၂ ခြင်း ကို ခံ ထိုက် တော် မူ ၏။- မြေ ကြီး တ ပြင်
လုံး ရွှင်ထန်း ရာ ဇိအုန် တောင် ထိပ် သည် အ
ဆင်းလှပေ၏၊ မြောက် မျက်နှာ ဘက်၌ မဟာ
၃ မင်းကြီး၏ မြို့ တော်သည် တည်၏။- ထိုမြို့ ၏ ဘုံ
ဗိမာန် တို့တွင်၊ ဘုရားသခင်၌ ခိုလှုံရသည်ကို
သိရ၏။
၄ ရှင်ဘုရင်တို့သည် စည်းဝေး၍ အတူရှောက်
၅ သွား ကြ၏။- မြင်သော အခါ မှိုင် တွေ ၍ ထိတ်
၆ လန့်လျက် ပြေးကြ၏။- ထိုအရပ်၌ သူတို့သည်
ကြောက်လန့်ခြင်းသို့ရောက်၍၊ သားဖွားသော
၇ မိန်းမခံရသကဲ့သို့ဝေဒနာရှိကြ၏။- တာရှုသင်္ဘော
တို့ကိုချိုးဖျက်သော အရှေ့လေနှင့် တွေ့သကဲ့သို့
ဖြစ်ကြ၏။
၈ ငါတို့သည်ကြားဘူးသည်အတိုင်း၊ ကောင်း
ကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား၏ မြို့၊ ငါတို့
ဘုရားသခင်၏မြို့တော်၌တွေ့မြင်ရကြ၏၊ ဘုရား
သခင် သည် မြို့တော် ကို အစဉ်အမြဲ တည်စေ
၉ တော် မူမည်။- အို ဘုရား သခင်၊ အကျွန်ုပ်တို့
သည် ဗိမာန် တော် ထဲ မှာ ကရုဏာ တော် ကို
၁၀ အောင်း မေ့ ကြ ပါ၏။- အို ဘုရား သခင်၊ နာမ
တော်သည်မြေကြီးစွန်းတိုင်အောင်နှံ့ပြားသည်
နည်း တူ၊ ဂုဏ် အသရေ တော် လည်း နှံ့ပြား
လျက်ရှိပါ၏၊ လက်ျာ လက်တော်သည် ဖြောင့်
၁၁ မတ်ခြင်းတရားနှင့်ပြည့်ဝလျက်ရှိပါ၏။-တရား
စီရင် တော် မူ ချက် များ ကြောင့် ဇိအုန် တောင်
သည် ဝမ်းမြောက်၍၊ ယုဒ အမျိုး သမီးတို့သည်
၁၂ ရွှင်လန်းကြပါ၏။-သားမြေးတို့အားကြားပြော
မည်အကြောင်း၊ဇိအုန်မြို့ကိုပတ်ပတ်လည်၍ပြ
၁၃ အိုး တို့ကို ရေတွက် ကြလော့။- ရင်တား တို့ကို
မှတ် ၍၊ ဘုံ ဗိမာန် များကိုလည်း ဆင်ခြင် ကြ
၁၄ လော့။- အကြောင်း မူ ကား၊ ထို ဘုရား သခင်
သည် ကာလ အစဉ် အမြဲ ငါ တို့ ၏ ဘုရား ဖြစ်
တော်မူ၏၊သေသည်ကာလတိုင်အောင်၊ငါတို့ကို
ပို့ဆောင်တော်မူလတ္တံ့သတည်း။

၄၉

၁ လူများအပေါင်းတို့၊ကြားကြလော့၊ ခပ်သိမ်း
၂ သော လောကသား၊ အယုတ်အမြတ်၊ ကြွယ်ဝ
သော သူ၊ ဆင်းရဲ သော သူ တို့၊ တညီ တညွတ်
၃ တည်းနားထောင်ကြလော့။- ငါ့နှုတ်သည်ပညာ
ကိုမြွက်ဆိုမည်၊ငါ့နှစ်လုံးသည်ညာဏ် နှင့်ဆိုင်
၄ သောအရာကိုဆင်ခြင်မည်။- ပုံစကားသို့ကိုယ်
နားကိုလှည့်လျက်၊ နက်နဲသောအရာကိုစောင်း
တီး၍ဖွင့်ပြပေအံ့။
၅ ခဲယည်းဆိုးလုတ်သော ကာလ၌ ငါ၏အရာ
တို့လုယူချင်သောသူတို့၏ဒုစရိုက်အမှုသည်ငါ့ကို
ဝိုင်း သော် လည်း၊ ငါ သည် အဘယ် ကြောင့်
၆ ကြောက်ရ မည်နည်း။- ထိုသူ တို့သည် ကိုယ်
ဥစ္စာကို ကိုးစား၍၊ ကိုယ်စည်း စိမ် များသော
၇ ကြောင့် ဝါကြွားသော်လည်း- မိမိညီအစ်ကိုကို

အထာဝရဆုမှု အလျှော်းမရွေးနိုင်၊ ရွေးရန်အဘိုး
၈ ကို ဘုရားသခင်၌ မပေးနိုင်။— သူတို့အသက်
ဝိညာဉ်၏ရွေးရန်အဘိုးကြီးလှပေ၏၊သို့ဖြစ်၍အ
၉ စဉ်ရှင်လျက် နေရမည်။-ရွေးလျှော်အစဉ်အမြဲ
အသက်ရှင်ရာ၏၊ ပုပ်စပ်ခြင်းသို့ မရောက်ရာ။—
၁၀ ထင်ရှားသော အရာဟူမူကား၊ ပညာရှိသောသူ
ထိုသည်သေတတ်ကြ၏၊ ထိုအတူမိုက်သောသူ
နှင့် တိရိစ္ဆာန်သဘောရှိသော သူတို့သည်ဖျက်
စီးခြင်းသို့ရောက်၍၊မိမိတို့ဥစ္စာကိုသူတပါးတို့
၁၁ ၌ချန်ထားကြ၏။— မိမိတို့အိမ်သည်ထာဝရဖြစ်
ထိမ့်မည်၊ မိမိတို့နေရာတည်းလူမျိုးအစဉ်အ
ဆက် တည်လိမ့်မည်၊ မိမိတို့နာမသည် မြေပေါ်
မှာ ကျော်စော လိမ့်မည်ဟု သူတို့စိတ်ထင်ရှိကြ
၁၂ ၏။— ထိုရာတွင်၊လူသည်ဂုဏ်အသရေ၌မတည်
မနေ တတ်၊ ဖျက်စီးခြင်းသို့ ရောက် တတ် သော
၁၃ တိရိစ္ဆာန်နှင့်တူ၏။-ဤ သို့ပြုမူခြင်းအရာသည်
သူတို့၏ ကိုးစားရာ ဖြစ်၍၊ သူ့ဘို့ သား မြေး တို့
၁၄ သည်သူတို့စကားကို နှစ်သက်တတ်ကြ၏။— ထို
သူတို့ကို သိုးများကဲ့သို့မရဏာနိုင်ငံ၌ချသား၍၊
သေမင်း စား လိမ့်မည်၊ ကာလ မကြာ မမြင့်မှီ၊
ဖြောင့်မတ်သော သူတို့သည် အုပ်စိုးရကြလိမ့်
မည်၊ သူတို့၏ကိုယ်ခန္ဓာသည် ဆောက်ပြန်ဒို့ရာ
ဖြစ်၏၊မရဏာနိုင်ငံသည်သူတို့၏နေရာဖြစ်၏။-
၁၅ ငါကိုမူကား၊ ဘုရားသခင်သိမ်းယူတော်မူသော
ကြောင့်၊ ငါ၏ဝိညာဉ်ကိုမရဏာနိုင်ငံ၏တန်ခိုးမှ
ရွေးတော်မူမည်။
၁၆ လူတပါးသည် ဥစ္စာကြွယ်ဝ၍၊ ထိမ်၏ဂုဏ်
အသရေ တိုးပွားသော အခါ သင်သည မစိုးရိမ်
၁၇ နှင့်။— ထိုသူသည်သေသောအခါ၊အဘယ်ဥစ္စာ
မျှမပါရ၊ သူ၏ဂုဏ်အသရေသည်သူနောက်သို့
၁၈ မဆင်းသက်ရ။-ထိုသူသည်အသက်ရှင်စဉ်အ
ခါ၊ မိမိဝိညာဉ်ကို ကောင်းကြီး ပေးတတ်၏၊ မိမိ
အကျိုးကိုပြုစုသောအခါ၊ သူတပါးတို့သည်ချီး
၁၉ မွမ်းတတ်ကြ၏။–သို့သော်လည်း၊သူသည်သူ၏
ဘိုးဘေးအမျိုးရှိရာသို့သွားရလိမ့်မည်၊ ကာလ
အစဉ် အဆက် သူတို့သည် အလင်းကို မမြင်ရ
၂၀ ကြ။-ဂုဏ်အသရေနှင့်ပြည့်စုံလျက်ပညာသတိ
မရှိသော သူသည်ကား၊ ဖျက်စီးခြင်းသို့ ရောက်
တတ်သောတိရိစ္ဆာန်နှင့်တူ၏။

၅၀

၁ တန်ခိုးကြီးသောဘုရားသခင်တည်းဟူသော
ထာဝရ ဘုရားသည် ဗျာဒိတ်ပေးတော်မူ၏၊ နေ
ထွက်ရာမှသည်နေဝင်ရာတိုင်အောင်မြေကြီးကို
၂ ခေါ်တော်မူ၏။— အသရေထင်ရှားခြင်း ပြည့်စုံ
ရာ ဇိအုန် တောင် ပေါ်မှာ ဘုရား သခင်၏ ရောင်
၃ ခြည်တော်သည်ထွန်းပ၏။-ငါတို့၏ဘုရားသခင်
ကြွလာ တော်မူ၏၊ တိတ်ဆိတ်စွာ နေတော် မမူ။
ရှေ့တော်၌မီးသောင်လျက်ပတ်ဝန်းကျင်၌မိုဃ်း
၄ သက်မုန်တိုင်းပြင်းပြလျက်ရှိ၏။— မိမိလူတို့ကို
စစ်ကြောစီရင်ခြင်းအလို့ငှါအထက်ကောင်းကင်
၅ ကိုင်၊မြေကြီးကိုင်ခေါ်တော်မူလျက်- ယဇ်ပူ
ဇော်သောအားဖြင့်၊ငါနှင့်ပဋိညာဉ်ဖွဲ့သောငါ
၏သန့်ရှင်းသူတို့ကို ငထံသို့စုဝေးစေကြဟု မိန့်
၆ တော်မူ၏။- ဘုရားသခင်သည်ကိုယ်တော်တိုင်
တရားဆုံးဖြတ်တော်မူသည်ဖြစ်၍၊ ဖြောင့်မတ်
တော်မူခြင်းအကြောင်းကိုကောင်းကင်ထိုသည်
ထင်ရှားပြကြလိမ့်မည်။
၇ ငါ၏လူများတို့၊နားထောင်ကြ၊ငါပြောမည်၊
ဣသရေလအမျိုး၊ သင့်တဘက်၌ငါသက်သေ
ခံမည်၊ ငါသည်ဘုရားသခင်ဖြစ်၏၊သင်၏ဘုရား
၈ သခင်ဖြစ်၏။- မီးရှို့သောယဇ်မှစ၍၊ယဇ်ပူဇော်
ခြင်းအမှုမှုအတွက်၊ငါသည် သင့်ကို အပြစ်မ
တင်၊ ထိုယဇ်တို့သည်ငါ့ရှေ့မှာအစဉ်ရှိကြ၏။—
၉ သင့် အိမ်ထဲက နွားကိုင်၊ သင့်ခြံထဲက ဆိတ်
၁၀ ထီးကိုင် ငါမခံမယူ။— တောတိရိစ္ဆာန် ရှိသမျှ
တို့နှင့်၊ တထောင်သော တောင်ပေါ်မှာ ရှိသော
၁၁ တိရိစ္ဆာန်တို့သည်ငါ၏ဥစ္စာဖြစ်ကြ၏။-တောင်
ပေါ်မှာနေတတ်သောငှက်အပေါင်းတို့ကို ငါသိ
၁၂ ၏၊တောသားရဲတို့သည်ငါ၌ရှိကြ၏။- ငါသည်
ငတ်မွတ်လျှင်သင့်ကိုမပြော၊ လောကဓာတ်နှင့်
၁၃ လောကဥစ္စာသည်ငါ၏ဥစ္စာဖြစ်၏။-နွားသားကို
ငါစားမည်လော၊ ဆိတ်သွေးကိုငါသောက်မည်
၁၄ လော။— ကျေးဇူး ချီး မွမ်းခြင်း ယဇ်ကို ဘုရား
သခင်အားပူဇော်လော့၊ သစ္စာဂတိထားသည်
အတိုင်း၊အမြင့်ဆုံးသောဘုရား၌ သစ္စာဝတ်ကို
၁၅ ဖြေလော့။- အမှုရောက်သည်ကာလ၌ငါ့ကိုပဌ
နာပြုလော့၊ငါသည်ကယ်လွှတ်မည်၊ သင်သည်
လည်း၊ငါ့ကိုချီးမွမ်းလိမ့်မည်ဟုမိန့်တော်မူ၏။
၁၆ မတရားသောသူကို ကား၊ သင်သည် ငါ၏အ
ထုံးအဖွဲ့ တို့ကို ကြားပြော၍၊ ငါ၏ပဋိညာဉ်
တရားကိုနှုတ်ဆိုခြင်းငှါ၊ အဘယ်သို့ ဆိုင်သ
၁၇ နည်း။— ဆုံးမသွန်သင်ခြင်းကိုသင်သည် မုန်း၍၊
ငါ့စကားကို သင့်နောက်၌ ပစ်ထားပါသည်တ
၁၈ ကား။— သင်သည် သူခိုးကိုမြင်လျှင်၊ သူနှင့်အ

သောသူတပါး၏ လုယသားကို ဖြစ်မှားစေသောသူ
၁၉ ထိုမှတပါးသတ်ဆဲတတ်၏။— သင်၏နှုတ်ကိုဒုစရိုက်
၌အပ်နှံ၍၊ သင်၏လျှာဖြင့်စုသောကိုစီရင်တတ်
၂၀ ၏။— သင်သည် ထိုင်လျက်၊ ကိုယ်ညီအစ်ကိုကို
အနိဂုစ်ထက်ဂြ၍ပြောဆိုတတ်၏။ ကိုယ်အမိ
၂၁ ၏သားကို ဆဲရေးတတ်၏။— ထိုသို့ကျင့်၍ ငါ
သည်တိတ်ဆိတ်စွာ နေသောကြောင့်၊ ငါကိုသင်
နှင့်တူသည်ဟုထင်သေပြီတကား။ သင်၏အပြစ်
ကိုငါဖော်ပြ၍၊ သင့်မျက်မှောက်၌ ခင်းထား
၂၂ မည်။—ဘုရားသခင်ကိုမေ့လျော့သောသူတို့၊ ဤ
အမှုကိုဆင်ခြင်ကြလော့။ သို့မဟုတ်၊ သင်တို့ကို
ကယ်နှုတ်သော သူမရှိ။ ငါသည်အပိုင်းပိုင်းဆွဲ
၂၃ ဖြတ်မည်။—ကျေးဇူးချီးမွမ်းခြင်းယဇ်ကိုပူဇော်
သောသူသည် ငါ၏ဘုန်းကိုထင်ရှားစေသောသူ
ဖြစ်၏။ မိမိသွားသောလမ်းကို ဆင်ခြင်သောသူ
အားသည်၊ ကယ်တင်တော်မူခြင်းကျေးဇူးကို
ငါပြမည်ဟုဘုရားသခင်မိန့်တော်မူ၏။

၅၁

ဂါဝိဒ်သည်ဗတ်သရှေဘနှင့်မှားယွင်း၍၊ ပရောဖက်
နာသန်ဆုံးမခြင်းကိုခံပြီးမှ၊ စပ်
ဆိုသောဆာလံ။

၁ အိုဘုရားသခင်၊ ကျေးဇူးပြုချင်သောစေတနာ
မိတ်တော်ရှိသည် အတိုင်း၊ အကျွန်ုပ်ကိုသနား
တော်မူပါ။ နှမက်တော်ခြင်း ကရုဏာများပြား
သည်နှင့်အညီ၊ အကျွန်ုပ်ဒွန်ကျူးခြင်းအပြစ်
၂ ထိုဖြေတော်မူပါ။— ဒုစရိုက် အညစ်အကြေးကို
အကုန်အစင်ဆေးကြော၍၊ အကျွန်ုပ်ကို သန့်
၃ ရှင်းစေတော်မူပါ။— အကျွန်ုပ် ဒွန်ကျူး ပါပြီ
ဟုဝန်ခံလျက်၊ ကိုယ်အပြစ်ကို အစဉ်မပြတ်
၄ အောင်းမေ့လျက် နေပါ၏။— ကိုယ်တော်ကို ပြစ်
မှားပါပြီ။ ကိုယ်တော်ကို သာ ပြစ်မှား၍၊ မျက်
မှောက်တော်၌ပင်မတရားသောအမှုကိုပြုပါပြီ။
ထိုဖြစ်၍၊ မိန့်တော်မူချက် သည် ဖြောင့် ပါ၏။
တရားစီရင် တော် မူချက် သည် အပြစ် ကင်းပါ
၅ ၏။—အကျွန်ုပ်သည်မွေးစကပင်၊ အပြစ်ပါလျက်
ရှိပါ၏။ အမိဝမ်းထဲမှာ ပဋိသန္ဓေယူစည်ပင်အ
ပြစ်ရှိပါ၏။
၆ ထုတ်ဖော်ဖြောင့်မတ်သော စိတ်နှလုံးကိုနှစ်
သက်တော်မူသည်ဖြစ်၍၊ အကျွန်ုပ်၏ စိတ်နှလုံး
၇ ထဲမှာ ပညာကို သွန်သင် တော် မူပါ။— အ
ကျွန်ုပ်ကိုစင်ကြယ်စေခြင်းငှါ၊ ဆုဆပ် ပင်ညွန့်
နှင့် သန့်ရှင်းခြင်း မင်္ဂလာ ကို ပေးတော် မူပါ။
အကျွန်ုပ်ကို ရိုက်ချိုးတော်မူသော အရိုးတို့သည် ရွှင်လန်းခြင်းရှိကြ
၈ ပါလိမ့်မည်။— အကျွန်ုပ်ဒွန်ကျူးခြင်းဒုစရိုက်
ကိုဖုံးအုပ်တော်မူပါ။ အကျွန်ုပ် အပြစ်ရှိ
၉ သမျှ ကို လည်း ဖြေ တော် မူပါ။— အို ဘုရား
သခင်၊ အကျွန်ုပ် အထဲ၌ စင်ကြယ်သော နှလုံး
ကိုဖန်ဆင်းတော်မူပါ။ မြဲမြံတည်ကြည်သောသ
၁၀ ဘောကိုအသစ်ပြုပြင်တော်မူပါ။— အကျွန်ုပ်ကို
အထံတော်မှ နှင်ထုတ်တော်မမူပါနှင့်။ သန့်
ရှင်းသောဝိညာဉ်တော်ကိုရုပ်သိမ်းတော်မမူပါ
၁၁ နှင့်။— ကယ်တင်တော်မူခြင်းနှင့်ရှည်သောဝမ်း
မြောက်ခြင်းအခွင့်ကိုပြန်၍ ပေးသနားတော်မူ
၁၂ ပါ။ ကြည်ညိုသော စေတနာစိတ် သဘောသည်
အကျွန်ုပ်ကို ထောက်မ ပါစေသော။— အကျွန်ုပ်
သည်လည်း၊ မတရားသော သူတို့အား တရား
တော်လမ်းကို ပြသ သွန်သင် ပါမည်။ အပြစ်ရှိ
၁၃ သော သူတို့သည် ကိုယ် တော် ထံသို့ ပြန် ကြပါ
လိမ့်မည်။
၁၄ အိုဘုရားသခင်၊ အကျွန်ုပ်ကို ကယ်တင်တော်
မူသောဘုရား၊ လူအသက်ကို သတ်ခြင်း အပြစ်
နှင့်အကျွန်ုပ်ကိုကင်းလွတ်စေတော်မူပါ။ တရား
သဖြင့် စီရင်တော်မူခြင်းကို အကျွန်ုပ်လျှာသည်
၁၅ ရွှင်လန်းစွာ သီခြင်း ဆိုပါမည်။— အို ထာဝရ
ဘုရား၊ အကျွန်ုပ်၏နှုတ်ကိုဖွင့်တော်မူပါ။ ဂုဏ်
ကျေးဇူးတော်ကို ချီးမွမ်း၍ မြွက်ဆို ပါမည်။—
၁၆ ယဇ်ပူဇော်ခြင်းကို အလိုတော်မရှိ။ သို့မဟုတ်
လျှင်ယဇ်ပူဇော်ပါမည်။ မီးရှို့သောယဇ်ပူဇော်
၁၇ ခြင်းကိုပင်နှစ်သက်တော်မမူ။—ဘုရားသခင်နှစ်
သက်တော် မူသော ယဇ် မူကား၊ ကျိုးပဲ့သော
စိတ် ပေတည်း။ အို ဘုရားသခင်၊ ကိုယ် တော်
သည် ကျိုးပဲ့ ကြေ ွေသော နှလုံး ကို ငြင်းပယ်
တော်မမူတတ်ပါ။
၁၈ စေတနာစိတ်တော်ရှိ၍ဇိအုန်တောင်ကိုကျေး
ဇူးပြုတော် မူပါ။ ယေရုရှလင် မြို့ရိုးကို တည်စေ
၁၉ တော်မူပါ။— ထိုအခါတရားသဖြင့် ပူဇော်သော
ယဇ်၊ မီးရှို့သော ယဇ်၊ တကိုယ်လုံး မီးရှို့သော
ယဇ်နှင့် မွေ့လျော် တော် မူလိမ့် မည်။ ထို အခါ
ယဇ်ပလ္လင်တော်ပေါ်မှာ နွားထီးတို့ကိုယဇ်ပူ
ဇော်ကြပါလိမ့်မည်။

## ၅၂

ဒါဝိဒ်သည်အဟိမလက်၏သားဒေါက်ကြောင်း၌
ဧဒုံအမျိုးသားဒေါဂသည်ရှောလုထံသို့လာ၍
လျှောက်သောအခါ၊စပ်ဆိုသောဆာလံ။

၁ အားကြီးသောအရှင်လူ၊ သင်သည် လူအ
ကျိုးကိုဖျက်ခြင်းအမှု၌အဘယ်ကြောင့်ဝါကြွား
သနည်း၊ဘုရားသခင်၏ကရုဏာတော်သည်အ
၂ စဉ်မပြတ်တည်၏။– သင်၏လျှာသည်ထက်
သောသင်တုန်းကဲ့သို့ လှည့်စားသဖြင့်၊ လူအ
၃ ကျိုးကိုဖျက်ခြင်းအမှုကို ပြုစုတတ်၏။– သင်
သည်သုစရိုက်ထက်ဒုစရိုက်ကိုရှင်၊ ဖြောင့်မတ်
သောစကားထက်မုသာစကားကိုရှင်သာ၍နှစ်
၄ သက်တတ်၏။– ဖို့လှည့်စားတတ်သောလျှာ၊
သင်သည် ဖျက်ဆီးသောစကားရှိသမျှတို့ကိုနှစ်
၅ သက်တတ်၏။– အကယ်စင်စစ်ဘုရားသခင်သည်
သင့်ကို အစဉ်အမြဲ ဖြိုဖျက် ပယ်ရှင်းလျက်၊
သင်၏နေရာထဲကနှင်ထုတ်၍၊အသက်ရှင်သော
၆ သူတို့၏နေရာထဲကနှုတ်ပြစ်တော်မူမည်။–ဖြောင့်
မတ်သောသူတို့သည်မြင်၍ ကြောက်ရွံ့ကြလိမ့်
၇ မည်။– ဘုရားသခင်ကိုမမှီဝဲ၊ မိမိဥစ္စာကြွယ်ဝ
ခြင်းအပေါ်ကိုအားထား၍၊ မိမိဒုစရိုက်၌ မိုင်ခံ့သောသူကို
၈ ကြည့်ပါဟု၍သူ့ကိုရယ်ကြလိမ့်မည်။–ငါမူကား
ဘုရားသခင်၏အိမ်တော်၌ စိမ်းလန်းသောသံ
လွင်ပင်ကဲ့သို့ဖြစ်၍၊ ဘုရားသခင်၏ကရုဏာ
၉ တော်၌ကာလအစဉ်အမြဲကိုးစားမည်။–ကိုယ်
တော်စီရင်တော်မူသောကြောင့်၊ အကျွန်ုပ်သည်
ကိုယ်တော်ကို ကာလအစဉ်အမြဲ ချီးမွမ်းပါ
မည်၊ ကောင်းမြတ်တော်မူသောကြောင့်၊ ကိုယ်
တော်၏သန့်ရှင်းသူတို့ရှေ့မှာ နာမတော်ကိုမျှော်
လင့်ပါမည်။

## ၅၃

၁ ဘုရားသခင်မရှိဟု၊ မိုက်သောသူသည်ထင်
တတ်၏၊ထိုသို့သောသူတို့သည်ဆွေးမြေ့ယိုယွင်း
၍၊စက်ဆုပ်ဖွယ်သောဒုစရိုက်ကိုပြုတတ်ကြ၏၊
ကောင်းသောအမှုကိုပြုသောသူတယောက်မျှမ
၂ ရှိ။– နားလည်သောသူ၊ ဘုရားသခင်ကိုရှာသော
သူတစုံတယောက် ရှိသည်မရှိသည်ကို သိမြင်
ခြင်းငှါ၊ ဘုရားသခင်သည် ကောင်းကင်ပေါ်က
၃ လူသားတို့ကိုငုံ့၍ကြည့်ရှုတော်မူ၍–လူအပေါင်း
တို့သည်လွဲသွားကြပြီ၊ တညီတညွတ်တည်း
ဆွေးမြေ့ယိုယွင်းခြင်းရှိကြ၏၊ ကောင်းသောအ
ကျင့်ကိုကျင့်သောသူမရှိ၊တယောက်မျှမရှိ။
၄ ဒုစရိုက်ကိုပြုသောသူတို့သည် ငါ၏လူတို့ကိုမုန့်စားသကဲ့သို့စား၍၊
ဘုရားသခင်ကိုပဌနာမပြုသောအခါ၌ မသိဘဲနေကြသလော။–
၅ ထိုအရပ်၌ ကြောက်
လန့်စရာမရှိသော်လည်း၊ အလွန်ကြောက်လန့်
ကြလိမ့်မည်၊ အကြောင်းမူကား၊သင့်ကိုဝန်းရံ
၍ တပ်ချသောသူ၏ အရိုးတို့ကို ဘုရားသခင်
သည်စရိမ်ကွဲပြားစေတော်မူမည်၊ သူတို့ကို
ဘုရားသခင်ရှုတ်ချတော်မူသောကြောင့်၊ သင်
၆ သည် သူတို့ကို အရှက်ခွဲရလိမ့်မည်။– ဣသရေ
လအမျိုးကိုကယ်တင်ခြင်းကျေးဇူးတော်သည်
ဇိအုန်တောင်ပေါ်မှာပေါ်ထွန်းပါစေသော၊သိမ်း
သွားခြင်းကိုခံရသောလူမျိုးတော်ကိုထာဝရ
ဘုရားသခင်သည် ဆောင်ခဲ့တော်မူသောအခါ၊
ယာကုပ်သည် ဝမ်းမြောက်ခြင်း၊ ဣသရေလ
သည်လည်း ရွှင်လန်းခြင်းရှိလိမ့်မည်။

## ၅၄

ဒါဝိဒ်သည်ကျွန်တော်တို့တွင်ပုန်းရှောင်၍နေပါ
သည်မဟုတ်လောဟု၊ ဇိဖသားတို့သည်
ရှောလုထံသို့လာ၍လျှောက်သော
အခါ၊စပ်ဆိုသောဆာလံ။

၁ အိုဘုရားသခင်၊ နာမတော်အားဖြင့်အကျွန်ုပ်
ကိုကယ်တင်တော်မူပါ။ တန်ခိုးတော်အားဖြင့်
၂ အကျွန်ုပ်အတွက်တရားစီရင်တော်မူပါ။– အ
ကျွန်ုပ်ပြုသောပဌနာနှင့် အကျွန်ုပ်မြွက်သော
စကားကိုနားထောင်နားညောင်းတော်မူပါ၊
၃ ဘုရား။– အကြောင်းမူကား၊ တကျွန်းတနိုင်
သားတို့သည် အကျွန်ုပ်ကို ရန်ထတ်ပြု၍ ထကြ
ပါပြီ။ ကြမ်းတမ်းသောသူတို့သည်အကျွန်ုပ်အ
သက်ကိုရှာကြပါ၏၊ ဘုရားသခင်၏ မျက်မှာ
တော်ကိုမထောက်ကြပါ။
၄ ကြည့်ရှုလော့၊ ဘုရားသခင်သည် ငါ့ကိုကူမ
တော်မူ၏၊ ငါ့အသက်ကိုထောက်ပင့်သောသူတို့
၅ တွင်ထာဝရဘုရားရှိတော်မူ၏။– ငါ၏ရန်သူတို့
အားမကောင်းသောအကျိုးကို ဆပ်ပေးတော်မူ
မည်၊သစ္စာတော်ရှိသည်အတိုင်း၊သူတို့ကိုပယ်
၆ ရှင်းတော်မူပါ၊–အကျွန်ုပ်သည်လည်း၊စေတနာ
စိတ်နှင့်ကိုယ်တော်အားယဇ်ပူဇော်ပါမည်။ အို
ထာဝရဘုရား၊ နာမတော်ကို ချီးမွမ်းပါမည်။
အကြောင်းမူကား၊ ကောင်းမြတ်တော်မူ၏။–
၇ အကျွန်ုပ်ကို ခပ်သိမ်းသော ဒုက္ခထဲက ထုတ်
နှုတ်တော်မူသဖြင့်၊ အကျွန်ုပ်သည် ရန်သူတို့ကို
ကိုယ်မျက်စိနှင့်မြင်၍အားရပါ၏။

၅၅

၁ အို ဘုရားသခင်၊ အကျွန်ုပ်ဆုတောင်းသော
စကားကို နားထောင်တော်မူပါ၊ အသနားတော်
၂ ခံသောအခါရှောင်၍နေတော်မမူပါနှင့်။-ကြည့်
ရှု နားထောင်တော်မူပါ၊ ရန်သူ၏စကားသံ
ကြောင့်၎င်း၊ မတရားသောသူ ညှဥ်းဆဲခြင်းကြောင့်
၎င်း၊ အကျွန်ုပ်သည် ငြိုငြင်သောစိတ်နှင့်ညည်း
၃ တွားမြည်တမ်းလျက်နေရပါ၏။-သူတို့သည်အ
ကျွန်ုပ်အပေါ်၌အပြစ်ကိုသက်ရောက်စေ၍၊ ဒေါ
၄ သစိတ်နှင့်ရန်းကြပါ၏။-အကျွန်ုပ်နှစ်လုံးသည်
ကိုယ်အထဲမှာတုန်လှုပ်၍၊ သေဘေးကိုကြောက်
၅ အားကြီးပါ၏။- ကြောက်ရွံ့တုန်လှုပ်ခြင်းသို့
ရောက်၍၊ တုန်လှုပ်ထိတ်လန့်ခြင်း၌ နှစ်မြုပ်လျက်ရှိ
၆ ရပါ၏။- ငါသည်ချိုးငှက်ကဲ့သို့ အတောင်ကိုရ
ပါစေသော၊ ထိုသို့ရလျှင်၊ အဝေးသို့ပျံသွား၍၊
၇ ငြိမ်ဝပ်လျက်နေလိမ့်မည်။- ဝေးစွာသွား၍
၈ တောမှာနေရာကျလိမ့်မည်။- ပြင်းစွာသော
မိုဃ်းသက်မုန်တိုင်းနှင့် လွတ်ခြင်းငှါ၊ အလျင်
အမြန်ပြေးလိမ့်မည်ဟု အကျွန်ုပ်စိတ်ရှိပါ၏။
၉ အို ထာဝရဘုရား၊ သူတို့စကားကို ပျက်
စေခြင်းငှါခွဲခြားစေတော်မူပါ၊ မြို့တော်တွင်အနိုင်
အထက်ပြုခြင်းနှင့် လုယူခြင်းကို အကျွန်ုပ်မြင်
၁၀ ပါပြီ။- မြို့ရိုးပေါ်မှာနေ့ညဉ့်မပြတ်သူတို့သည်
လှည့်ကြပါ၏၊ မြို့ထဲမှာ ဆိုးညစ်သော အမှုနှင့်
၁၁ နှောင့်ရှက်ခြင်းအမှုရှိကြပါ၏။- အဓမ္မတရား
တို့သည် မြို့အထဲ၌ရှိ၍၊ ညှဥ်းဆဲခြင်းနှင့်
လှည့်စားခြင်းသည် လမ်းတို့၌ နေရာကျကြပါ
၁၂ ၏။- ငါ့ကိုကဲ့ရဲ့သောသူသည် ရန်သူမဟုတ်၊
ဟုတ်လျှင်သည်းခံနိုင်၏၊ ငါ့ကိုရန်ထက်ပြုသော
သူသည် ငါ့ကိုမုန်းသောသူမဟုတ်၊ ဟုတ်လျှင်
၁၃ ထိုသူကိုငါရှောင်နိုင်၏။- ထိုသို့ပြုသောသူသည်
သင်ဖြစ်၏၊ ငါနှင့်ဖက်သောသူ၊ ငါ့မိတ်ဆွေ၊ ငါ
၁၄ အသိအကျွမ်းဖြစ်၏။- တချင်းချင်းသာယာသော
ဆွေးနွေးတိုင်ပင်ခြင်းကိုပြုကြပြီ၊ ဘုရားသခင်
၏အိမ်တော်သို့လူအစုအဝေးနှင့်အတူသွားကြ
၁၅ ပြီ။- သူတို့ကိုသေမင်းဖမ်းဆီးပါစေ၊ အသက်
ရှင်လျက် မရဏာနိုင်ငံသို့ ဆင်းသက်ကြပါစေ၊
အကြောင်းမူကား၊ ဒုစရိုက်ဒို့သည်သူတို့နေရာ
တွင်သူတို့အထဲ၌ရှိကြ၏။
၁၆ ငါမူကား၊ ဘုရားသခင်ကိုပဌနာပြု၍၊ ထာဝရ
၁၇ ဘုရားသည် ကယ်တင်တော်မူမည်။- ညဦး၊ အ
ရုဏ်၊ နံနက်အချိန်၊ မွန်းတည့်အချိန်တို့၌ ငါသည်
ညည်းတွားမြည်တမ်း၍၊ ငါ့အသံကိုကြား
၁၈ တော်မူမည်။- ငါ့ကိုစစ်တိုက်ကြသည်တွင်၊ ငါ့အ
သက်ကိုရွေးနှုတ်၍ ချမ်းသာပေးတော်မူမည်။
၁၉ ငါ့ထက်၌နေသောသူအများရှိကြ၏။- ရှေးကာ
လမှစ၍ အမြဲစိုးစံသော ဘုရားသခင်သည် နား
ထောင်၍၊ သူတို့ကိုနှိမ့်ချတော်မူမည်၊ သူတို့အပြစ်
ပြောင်းလဲခြင်း မရှိသောကြောင့်၊ ဘုရားသခင်
၂၀ ကိုမကြောက်မရွံ့ကြ။- ထိုသို့သောသူသည်မိတ်
ဆွေဖြစ်သောသူကိုပြစ်မှား၍ သစ္စာပျက်ပြတ်
၂၁ ၏။- သူ၏စကားသည်ထောပတ်ထက်ချောသော်
လည်း၊ စစ်တိုက်မည်ဟုအကြံရှိ၏၊ သူ၏စကား
သည် ဆီထက်ပျော့သော်လည်း၊ ထုတ်သော
ဓားဖြစ်၏။
၂၂ ထမ်းရွက်ရသောဝန်ကို ထာဝရဘုရား၌ ပုံ
ထားလော့၊ သင့်ကိုမစတော်မူမည်၊ ဖြောင့်မတ်
သောသူကို အစဉ်အမြဲ လှုပ်ရှားစေတော်မမူ
၂၃ ရား။-အိုဘုရားသခင်၊ အပြစ်ရှိသောသူတို့ကိုဖျက်
ဆီးရာတွင်းထဲသို့ချတော်မူမည်၊ လူအသက်ကို
သတ်သောသူနှင့် သစ္စာပျက်သောသူတို့သည်
မိမိအသက်တာတဝက်ခန့်မျှ မရှင်ရကြ၊ အ
ကျွန်ုပ်မူကား၊ ကိုယ်တော်၌မှီခိုပါမည်။

၅၆

ဒါဝိဒ်သည်ဂါသမြို့မှာဖိလိတ္တိလူတို့လက်သို့ရောက်
သောအခါ၊ စပ်ဆိုသောဆာလံ။

၁ အို ဘုရားသခင်၊ အကျွန်ုပ်ကို သနားတော်မူ
ပါ၊ လူတို့သည်ကိုက်စားလိုသောဝါသနာနှင့် နေ့
တိုင်း ထိုးတိုက်၍၊ အကျွန်ုပ်ကို နှိပ်စက်ကြပါ၏။-
၂ ရန်သူတို့သည်နေ့တိုင်း ကိုက်စားလိုသောဝါ
သနာရှိ၍၊ မြင့်သောစိတ်နှင့် အကျွန်ုပ်ကို ထိုးတိုက်
၃ သောသူအများရှိကြပါ၏။- အကျွန်ုပ်သည်
ကြောက်ရွံ့သောအခါ ကိုယ်တော်၌ မှီခိုပါ
၄ မည်။- ဘုရားသခင်ကိုအမှီပြု၍ နှုတ်ကပတ်
တော်၌ ဝါကြွားပါမည်၊ ငါသည်ဘုရားသခင်
ကိုမှီခိုသည်ဖြစ်၍ ကြောက်စရာမရှိ၊ လူသည်
၅ ငါ့၌အဘယ်သို့ပြုနိုင်သနည်း။- သူတို့သည်နေ့
တိုင်း ငါ့စကားကိုဖောက်ပြန်ကြ၏၊ ငါ့၌မကောင်း
၆ သောအကြံကိုသာကြံစည်ကြ၏။- ငါ့အသက်ကို
စောင့်စည်းသောအခါ၊ စုဝေး၍ ချောင်းမြောင်းလျက်
၇ ငါ့ခြေရာတို့ကိုကြည့်မှတ်ကြ၏။- သူတို့သည်မ
တရားသောအမှုအားဖြင့်လွတ်ခြင်းသို့ရောက်ရ
ပါမည်လော၊ အို ဘုရားသခင်၊ ထိုလူများတို့ကို
အမျက်တော်ထွက်၍ ချည်းတော်မူပါ။

၈ အကျွန်ုပ်သည်အရပ်ရပ်လည်ရသောအခြင်းအရာ ထို့ကို ကိုယ်တော် မှတ်၍၊ အကျွန်ုပ် မျက်ရည်ထို့ကို ဘူးတော်ထဲမှာ ထည့်တော်မူပါ။ စာ
၉ ရင်းတော်၌ မရှိ ပါသည် မဟုတ် လော။- ဘုရားသခင်သည် ငါ့ဘက်မှာနေတော်မူသောကြောင့်၊ ငါအော်ဟစ်သောအခါရန်သူတို့သည်ဆုတ်ခြင်း
၁၀ ကိုခံရကြမည်ကိုငါသိ၏။- ဘုရားသခင်ကိုအမှီပြု၍ နှုတ်ကပတ်တော်၌ ဝါကြွားမည်။ ထာဝရဘုရားကိုအမှီပြု၍ နှုတ်ကပတ်တော်၌ ဝါကြွား
၁၁ မည်။-ငါသည်ဘုရားသခင်ကို ခိုလှုံသည်ဖြစ်၍ ကြောက်စရာမရှိ။လူသည်ငါ၌အဘယ်သို့ပြုနိုင်
၁၂ သနည်း။- အိုဘုရားသခင်၊ အကျွန်ုပ်သည် ရှေ့တော်၌ သစ္စာ ပြုပါသည် ဖြစ်၍၊ သစ္စာ ဝတ်ကို
၁၃ ဖြေလျက်ကိုယ်တော်ကိုချီးမွမ်းပါမည်။-ကိုယ်တော်သည်အကျွန်ုပ်အသက်ကို သေခြင်းမှကယ်လွှတ်တော်မူပြီ။ အသက် ရှင်သော သူတို့၏ အလင်း ထဲ မှာ ဘုရား သခင် ရှေ့ တော် ၌ အကျွန်ုပ် ကျင့် နေ ပါ မည် အ ကြောင်း၊ အကျွန်ုပ် ခြေ ကို ထည်းထိမိ၍လဲခြင်းမှကယ်လွှတ်တော်မူမည်မဟုတ်လော။

၅၇

ဒါဝိဒ်သည် ဥမင်၌ ရှောလုထံမှ ထွက်ပြေးသော အခါ၊ စပ်ဆိုသောဆာလံ။

၁ အို ဘုရား သခင်၊ အကျွန်ုပ်ကို သနား တော်မူပါ။ သနားတော်မူပါ။ဘေးမလွန်မှီ တိုင်အောင်၊ အကျွန်ုပ်၏ ဝိညာဉ်သည် ကိုယ်တော်ကိုခိုလှုံပါ
၂ ၏။အတောင်တော်အမိုပ်၌ခိုလှုံပါ၏။-ငါသည် အမြင့်ဆုံးသောဘုရားသခင်၊ငအမှုကိုပြီးစီးစေတော် မူသော ဘုရားသခင်ကို အော်ဟစ် မည်။-
၃ ကောင်းကင်ကထက်တော်ကို ဆန့်တော်မူမည်။ ငကို ကိုက်စားထဲ့သော သူကို အရှက် ခွဲသဖြင့်၊ ငကို ကယ်တင်တော် မူမည်။ ကရုဏာတော်နှင့် သစ္စာ တော် ကို ဘုရား သခင် စေ လွှတ် တော် မူ
၄ မည်၊- ငဝိညာဉ် သည် ခြင်္သေ့ စုထဲမှာ နေရ၏။ ဓါးသ မီး လောင်လျက် ရှိသော လူသား တို့တွင် ငါအိပ်ရ၏။ သူတို့ သွားတို့သည် လှံနှင့်မြှား ဖြစ်ကြ၏။ သူတို့ လျှာသည်လည်း ထက်သော သန်လျက်ဖြစ်၏။
၅ ထိုဘုရားသခင်၊ ကောင်းကင်မြင့်သည်ထက် ကိုယ် တော် ကြီးမြင့် တော် မူစေ သ တည်း။ မြေကြီး တပြင် လုံးကို ဘုန်းတော် ထွမ်းမိုး ပါစေသ
၆ တည်း။- သူ ထိုသည် ငါ့ ခြေသွားရာ ထမ်း၌ ကျော့ကွင်း ကို ဖွင် ဆင် ကြ ပြီ။ ငဝိညာဉ် ဆည် နှိမ့်ချလျက်ရှိ၏။ငရှေ့၌တွင်းကိုတူးကြပြီးမှကိုယ်တူးသော တွင်း ထဲ သို့ ကိုယ် ကျ ကြ ပြီ။- အိုဘုရားသခင်၊ အကျွန်ုပ်နှစ်လုံးသည်တည်ကြည်ပါ၏။ အကျွန်ုပ်နှစ်လုံးသည်တည်ကြည်ပါ၏။ သီချင်းဆိုပါမည်။ ချီးမွမ်းထောမနာ ပြုပါမည်။- အိုငါ့ဝိညာဉ်၊ နိုးထလော့။တယောနှင့်စောင်းတို့၊ နိုးကြလော့။ ငါသည်းစောစော နိုးမည်။- အိုထာဝရဘုရား၊ ပရိသတ် အထယ်၌ ကိုယ်တော်ကိုချီးမွမ်း ပါ မည်။ လူမျိုး တို့ တွင် ကိုယ် တော် အား
၁၀ ထောမနာ သီချင်း ဆိုပါမည်။- အ ကြောင်းမူကား၊ ကရုဏာ တော်သည် ကောင်းကင်သို့ ၎င်း၊
၁၁ သစ္စာတော်သည် မိုဃ်းတိမ် သို့၎င်းမှီပါ၏။- အိုဘုရားသခင်၊ ကောင်းကင်မြင့်သည်ထက် ကိုယ်တော်ကြီးမြင့်တော် မူစေ သတည်း။ မြေကြီးတပြင်လုံးကိုဘုန်းတော်ထွမ်းမိုးပါစေသတည်း။

၅၈

၁ အို လူ သားတို့၊ အကယ် စင်စစ် သင်တို့ သည်
၂ စကားဖြောင့်ကြ သလော။- တရားသဖြင့်စီရင်ကြသလော။အကယ်စင်စစ်သင်တို့သည်မတရားသောအကြံကိုကြံစည်၍၊ မြေကြီးပေါ်မှာ ကိုယ်လက်နှင့်ပြုသောညှဉ်းဆဲခြင်းကိုချိန်တတ်ကြ
၃ ၏။-မတရားသောသူတို့သည် အမိဝမ်းထဲမှစ၍ ရှိုင်းသောသဘောရှိကြ၏။မွေးကတည်းကထမ်း
၄ ထွဲ၍ မုသာ စကားကို ပြောတတ် ကြ၏။- သူတို့ အဆိပ်သည်မြွေအဆိပ်နှင့်တူ၏။နားပင်းသော
၅ မြွေ ဆိုး သည် မိမိ နား ကို ပိတ် ၍- လိမ္မာသော အလမ္မယ် မြွက် ဆို သော မန္တရားစကားကိုနားမ ထောင်ဘဲနေသကဲ့သို့ဖြစ်ကြ၏။
၆ ထိုဘုရားသခင်၊သူတို့ပစပ်ထဲမှာသွားများကို ချိုးတော်မူပါ။ အိုထာဝရ ဘုရား၊ ခြင်္သေ့ပျို၏
၇ ထံသွားများကို ချိုးတော်မူပါ။- ထိုသူတို့သည် စီးသောရေကဲ့သို့ ကွယ်ပျောက်ကြ ပါစေသော။ လေးကိုတင်သောအခါမြှားတို့သည်ကျိုးသကဲ့သို့
၈ ဖြစ်ကြပါစေသော။-ခရုသည်သွားစဉ်တွင်အရည်ပျော်သကဲ့သို့၎င်း၊ပျက်သော ကိုယ်ဝန်သည်နေရောင်ကိုမမြင်ရသကဲ့သို့၎င်းဖြစ်ကြပါစေသော။-
၉ ဆူးပင်နှင့် မွေးသောမီးပူမှန်းကို အိုးတို့သည်မသိမှီ၊ အ သက်ရှင် သော ဆူးပင်နှင့်၊ မီး လောင် လျက်ရှိသော ဆူးပင်တို့ကို လေလွေ့ ထိုတ်သွား
၁၀ ပါ စေသော။- ဖြောင့် မတ် သော သူသည် ထိုသို့ သော ဒဏ်ပေးခြင်းကို မြင်၍ ဝမ်းမြောက် ၏

၁၀ လိမ့်မည်။- မတရားသော သူတို့၏ အသွေး၌ မိမိ
၁၁ ခြေထိုကိုဆေးပေါ်လိမ့်မည်။-သူတပါးကလည်း၊
ဖြောင့် မတ် သော သူသည် အကျိုးကို ဧကန် အ
မှန် ခံ ရ ၏၊ မြေ ကြီး ပေါ်မှာ တရား စီရင် သော
ဘုရားသခင်သည် ဧကန် အမှန် ရှိတော် မူသည်
ဟုဝန်ခံကြပါလိမ့်မည်။

## ၅၉

ရှောလုစေလွှတ်သောသူတို့သည်ဒါဝိဒ်အသက်ကို
သတ်ခြင်းငှါ၊အိမ်ကိုစောင့်ကြသော
အခါ၊ဒါဝိဒ်စပ်ဆိုသောဆာလံ။

ဪ အကျွန်ုပ်၏ ဘုရား၊ ရန်သူ တို့ လက် မှ အ
ကျွန်ုပ်ကိုကယ် နှုတ်တော် မူပါ၊ အကျွန်ုပ်ကို ရန်
ထက်ပြုသောသူတို့၏ အပေါ်မှာ အကျွန်ုပ်ကိုချီး
၂ မြှောက်တော်မူပါ။- ဒုစရိုက်ကိုပြုသောသူတို့အ
ထဲကအကျွန်ုပ်ကို နှုတ်လျှ၍၊ အသက်ကို သတ်
၃ လိုသောသူတို့လက်မှကယ်တင်တော်မူပါ။- သူ
တို့သည် အကျွန်ုပ်အသက်ကိုသတ်လို၍ ချောင်း
ကြည့်လျက် နေကြ ပါ၏၊ အားကြီး သော သူတို့
သည် အကျွန်ုပ်တဖက်၌ စည်းဝေးကြပါ၏၊ ဪ
ထာဝရဘုရား၊အကျွန်ုပ်မှားယွင်းသောကြောင့်
မဟုတ်ပါ၊ အကျွန်ုပ် အပြစ်ကြောင့် မဟုတ်ပါ။-
၄ အကျွန်ုပ်၌အပြစ်မရှိဘဲသူတို့သည်ပြေးလာ၍ပြင်
ဆင်ကြပါ၏၊ အကျွန်ုပ်ကိုကူမခြင်းငှါနိုးတော်မူ
ပါ၊ ကြည့်ရှု တော် မူပါ။- ဗိုလ်ခြေအရှင် အစ္စရေလ အမျိုး၏
ဘုရားသခင်၊ ကောင်းကင် ဗိုလ်ခြေ အရှင်ဘုရား
သခင်ထာဝရဘုရား၊သာသနာပလူအပေါင်းတို့
ကိုစစ်ဆေးခြင်းငှါနိုးတော်မူပါ၊ဒုစရိုက်၌ကျင်လည်
သောသူတစုံတယောက်ကိုမျှ သနားတော်မမူပါ
၆ နှင့်။-သူတို့သည်ညဦးယံ၌ပြန်လာ၍၊ ခွေးကဲ့
သို့အော်ဟစ်လျက်မြို့ကိုလှည့်ပတ်ကြပါစေ
သော။
၇ ထိုသူတို့သည် ဓားကဲ့သို့သော စကားကိုပြော
၍၊သူတို့နှုတ်ခမ်းတွင်ထားပါလျက်အဘယ်သူ
၈ ကြားလိမ့်မည်နည်းဟု ဆိုတတ်ကြပါ၏။-သို့ရာ
တွင်၊ဪထာဝရဘုရား၊ကိုယ်တော်သည်သူတို့ကို
ပြုံးရယ်၍၊ သာသနာပ လူအပေါင်း၊ တို့ကိုကဲ့ရဲ့
၉ တော်မူမည်။- ထိုအကျွန်ုပ်၏ အစွမ်းသတ္တိ၊ ကိုယ်
တော်ကိုမျှော်လင့်ပါမည်၊ ဘုရားသခင်သည်အ
၁၀ ကျွန်ုပ် မိတ္တရာ ဖြစ်တော် မူ၏။- ကရုဏာ အရှင်
ဘုရား သခင်သည် အကျွန်ုပ်ကို ကူမ ခြင်းငှါ ကြွ
လာတော်မူမည်၊ ရန်သူတို့ကိုအကျွန်ုပ်ကြည့်ရှု
၁၁ ၍အားရသောအခွင့်ရှိစေတော်မူမည်။-အကျွန်ုပ်
ထိုကိုကွယ်ကာတော်မူသောဘုရားရှင်၊သူတို့ကို
သတ်တော်မမူပါနှင့်၊ သတ်လျှင်အကျွန်ုပ်၏ လူ
တို့သည်သတိလစ်ကြပါလိမ့်မည်၊တန်ခိုးတော်
အားဖြင့် အရပ်ရပ် ကွဲပြား စေ၍ နှိမ့်ချ တော်မူ
၁၂ ပါ။-သူတို့ပြောမိသောစကားတည်း၊ဟူသောသူ
တို့နှုတ်၏ အပြစ်ကြောင့်မိမိတို့မာနတွင်ကျော့မိ
ပါစေသော၊ သူတို့ကျိန်ဆဲသောစကားနှင့်မုသာ
၁၃ စကားကြောင့်- အမျက်တော် အားဖြင့် ပျောက်
ပျက်စေတော်မူပါ၊ အကုန်အစင်ပျောက်ပျက်စေ
တော်မူပါ၊ ဘုရားသခင်သည် ယာကုပ်အမျိုး၌
စိုး၍၊ မြေကြီး စွန်း ထိုင် အောင် အုပ် စိုး တော်မူ
၁၄ ကြောင်းကို၊သူတို့သည်သိကြပါစေသော။-ညဦး
ယံ၌ပြန်လာ၍၊ခွေးကဲ့သို့အော်ဟစ်လျက်
၁၅ မြို့ကို လှည့် ပတ် ကြပါ စေသော။- အစာကို ရှာ
လျက်အရပ်ရပ်သို့လည်၍မဝဘဲတညဉ့်လုံးနေ
၁၆ ကြပါစေသော။- အကျွန်ုပ်မူကား၊တန်ခိုးတော်
ကိုသီချင်းဆိုပါမည်၊ နံနက်ယံ၌ ကရုဏာတော်
ကိုရွှင်လန်းစွာသီချင်းဆိုပါမည်၊ အကြောင်းမူ
ကား၊ ဆင်းရဲ သော ကာလ၌ ကိုယ် တော်
သည် အကျွန်ုပ်မိတ္တရာ၊ ဆည်းကွယ်ရာဖြစ်တော်
၁၇ မူ၏။- ထိုအကျွန်ုပ်အစွမ်းသတ္တိ၊ ကိုယ်တော်ကို
ထိုခြင်း ဆိုပါမည်၊ ဘုရားသခင်သည်အကျွန်ုပ်
မိတ္တရာဖြစ်တော်မူ၏၊အကျွန်ုပ်၌ကရုဏာအရှင်
ဘုရားသခင်ဖြစ်တော်မူ၏။

## ၆၀

ဒါဝိဒ်သည်မေသောပေါတာမိရှုရိလူတို့နှင့်စောဘ
အာရှုရိလူတို့ကိုစစ်တိုက်ပြီးမှ၊ယွာဘ
သည်ပြန်၍ဆားချိုင့်၌ဧဒုံလူတစ်သောင်းနှစ်
ထောင်တို့ကိုအားရှုံ့မိုလုပ်
ကြသောအခါ၊စပ်ဆို
သောဆာလံ။

၁ ဪဘုရားသခင်၊ကိုယ်တော်သည်အမျက်ထွက်
သဖြင့်၊အကျွန်ုပ်တို့ကိုစွန့်ပြစ်၍အရပ်ရပ်သို့ကွဲ
ပြားစေတော်မူပြီ၊တဖန်အကျွန်ုပ်တို့ကိုအသက်
၂ ရှင်စေ တော် မူပါ။- မြေကြီးကိုလှုပ်၍ ခွဲတော်မူ
ပြီ၊ ကွဲအက်ရာတို့ကိုတဖန်စေ့စပ်စေတော်မူပါ၊
၃ တုန်လှုပ်လျက်ရှိပါသော၏။-ကိုယ်တော်၏လူတို့
ကိုခက်ထန်စွာ စီရင်၍၊ မိုင်တွေခြင်း စပျစ်ရည်
၄ ကိုတိုက်တော်မူပြီ။- ကိုယ်တော်ကိုကြောက်ရွံ့
သောသူတို့သည်သစ္စာတရားကြောင့်ထူရသော
၅ အလံကိုပေးသနားတော်မူပြီ။-ချစ်တော်မူသော
သူတို့သည်ချမ်းသာရမည်အကြောင်း၊အကျွန်ုပ်

ထော၊ ထိုနား ထောင်၍၊ လက်ျာ လက်ရုံးတော်
အားဖြင့်ကယ်တင်တော်မူပါ။
၆ သန့်ရှင်းခြင်း ပါရမီတော်ကို ထိုင်တည်၍၊
ဘုရားသခင် သည် ဗျာဒိတ်ထားတော်မူသော
ကြောင့်၊ ငါသည်ဝမ်းမြောက်မည်၊ ရှေခင်မြို့ကို
ပိုင်းခြားမည်၊ သုကုတ်လယ်ပြင်ကို တိုင်းထွာ
၇ မည်။ ဂိလဒ်ပြည်ကိုငါပိုင်ရ၏၊ မနာရှေပြည်ကို
လည်းငါပိုင်ရ၏၊ ဧဖရိမ်ပြည်ကား၊ ငါ့ခေါင်း
၏အစွမ်း ဖြစ်ရ၏၊ ယုဒပြည်ကား၊ ငါ၏ သွတ်
၈ တော်ဖြစ်ရ၏။ မောဘပြည်ကား၊ ငါ့ရေချိုးအိုးဖြစ်
ရ၏၊ ဧဒုံပြည်ကား၊ ခြေနင်းရာဖြစ်ရ၏၊ ဖိလိတ္တိ
ပြည်အပေါ်မှာ အောင်သံနှင့်ကြွေးကြော်မည်။
၉ အားကြီးသော မြို့ထဲသို့ ငါ့ကို အဘယ်သူ သွင်း
ပေးမည်နည်း၊ ဧဒုံပြည်သို့ငါ့ကိုအဘယ်သူလမ်း
၁၀ ပြမည်နည်း။ ဘုရားသခင်၊ အကျွန်ုပ်တို့ကို
စွန့်ပစ်တော်မူသောကိုယ်တော်သည် ပြုတော်မူ
မည်မဟုတ်လော၊ ဘုရားသခင်၊ အကျွန်ုပ်တို့
ဗိုလ်ခြေနှင့်အတူကြွတော်မမူသောကိုယ်တော်
၁၁ သည် ပြုတော်မူမည် မဟုတ်လော။ ဒုက္ခနှင့်
လွတ်စေခြင်းငှါမစတော်မူပါ၊ လူတို့သည်
၁၂ ကယ်တင်ခြင်းငှါ မတတ်နိုင်ကြပါ။ ဘုရား
သခင်အားဖြင့် ငါတို့သည် ရဲရင့်စွာ ပြုကြမည်၊
ငါတို့၏ရန်သူများကိုကိုယ်တော်တိုင်နင်းတော်
မူမည်။

## ၆၁

၁ ဘုရားသခင်၊ အကျွန်ုပ် အော်ဟစ်ခြင်းကို
နားထောင်၍၊ အကျွန်ုပ်၏ ပဌနာစကားကို မှတ်
၂ တော်မူပါ။ စိတ်နှစ်လုံးညှိုးငယ်လျက် မြေကြီး
စွန်းမှ ကိုယ်တော်ကို အကျွန်ုပ် အော်ဟစ်ပါ၏၊
အကျွန်ုပ် အထက်၌ မြင့်သော ကျောက် သို့ အ
၃ ကျွန်ုပ်ကိုပို့ဆောင်တော်မူပါ။ ကိုယ်တော်သည်
အကျွန်ုပ်ခိုလှုံရာ၊ ရန်သူတို့ရှေ့မှာခိုင်ခံ့သောရဲ
တိုက် ဖြစ် တော်မူ၏။ တဲတော်၌ အစဉ် နေပါ
မည်၊ အတောင်တော်ဖုံးအုပ်ရာ၌ ခိုလှုံပါမည်။
၅ ဘုရားသခင်၊ အကျွန်ုပ်ပြုသောသစ္စာဂတိတို့
ကိုကြား တော် မူ၏၊ နာမ တော်ကို ကြောက်ရွံ့
သောသူတို့၏အမွေကိုအကျွန်ုပ်အားပေးတော်မူ
၆ ထိမ့်မည်။ ရှင်ဘုရင်၏ အသက်နေ့ရက်ကာလ
ကိုရှည်စေတော်မူ၍၊ နှစ်စဉ်မပြတ်မှီထာဝရ
၇ တည် ပါစေသော။ ဘုရားသခင် ရှေ့တော်၌ ထာ
ဝရကာလ ပတ်လုံး နေတော်မူစေသတည်း။ က
ရုဏာနှင့် သစ္စာတော်သည် သူ့ကို စောင့်မစေသ
၈ တည်း။ ထိုသို့ဖြစ်၍ နေ့ရက်အစဉ်အတိုင်း သစ္စာ
ဝတ်ကို ဖြေခြင်းငှါ၊ နာမ တော်ကို အစဉ် ထောမ
နာသီခြင်း ဆိုပါစေသတည်း။

## ၆၂

၁ အကယ် စင်စစ် ငါ၏ဝိညာဉ် သည် ဘုရားသခင်
ရှေ့မှာငြိမ်ဝပ်စွာနေတတ်၏၊ ငါ့ကိုကယ်တင်ခြင်း
အကြောင်း သည် အထံတော်က ထွက် ရောက်ရ
၂ ၏။ အကယ် စင်စစ် ဘုရား သခင် သည် ငါ၏
ကျောက်၊ ငါ့ကိုကယ်တင်ခြင်းအကြောင်း၊ ငါခို
လှုံရာဖြစ်တော်မူ၍၊ ငါသည်လှုပ်ရှားခြင်းများစွာ
၃ မရှိရာ။ သင်တို့သည်အဘယ်မျှကာလပတ်လုံး
ထယောက်သော သူကို တိုက်ကြ မည်နည်း၊ သူ
ကို တိမ်းသော ရုတ်မိုး၊ ယိုင်သော ထရံ ကဲ့သို့
မှတ်၍၊ သင်တို့အပေါင်းသည်အဘယ်မျှကာလ
၄ ပတ်လုံး ဖြိုဖျက် ကြ မည် နည်း။ ထိုသူ ကို မြင့်
သော အရပ်က လှည့်ခြင်းငှါ ကြံစည် လျက်နေ
ကြ၏၊ မုသာကို နှစ်သက် ကြ၏၊ နှုတ်ဖြင့်ကား
ကောင်းကြီးကိုပေးလျက်၊ နှလုံး၌ကား ကျိန်
ဆဲခြင်းကိုပြုတတ်ကြ၏။
၅ အကယ် စင်စစ် ငါ၏ဝိညာဉ် သည် ဘုရားသခင်
ရှေ့မှာငြိမ်ဝပ်စွာ နေတတ်၏၊ ငါမြော်လင့် ခြင်း
အကြောင်းသည် အထံ တော်က ထွက် ရောက်
၆ ရ၏။ အကယ် စင်စစ် ဘုရား သခင်သည် ငါ၏
ကျောက်၊ ငါ့ကို ကယ်တင်ခြင်း အကြောင်း၊ ငါခို
လှုံရာ ဖြစ်တော်မူ၍၊ ငါသည် လှုပ်ရှားခြင်း မရှိ
၇ ရာ။ ငါ့ကိုကယ်တင်ခြင်းအကြောင်း၊ ငါ၏ဘုန်း
ပွင့်ခြင်းအကြောင်းကားဘုရားသခင်ပေတည်း။
ငါ့ကို အားပေးသော ကျောက်၊ ငါခိုလှုံရာကား၊
၈ ဘုရားသခင် ပေတည်း။ ထိုလူများတို့၊ ဘုရား
သခင်၌အစဉ်မပြတ်ခိုလှုံကြလော့၊ ရှေ့တော်၌
စိတ် နှလုံး ကို ဖွင့် ပြ ကြ လော့၊ ဘုရား သခင်
သည်ငါတို့ခိုလှုံရာဖြစ်တော်မူ၏။
၉ အကယ် စင်စစ် ယုတ်ညံ့သော သူတို့သည် အ
နတ္တ၊ အသရေရှိသောသူတို့သည် မုသာဖြစ်ကြ၏၊
ချိန်ခွင်နှင့် ချိန်လျှင် ထိုသူအပေါင်းတို့သည်
၁၀ အနတ္တထက်သာ၍ ပေါ့ကြ၏။ ညှဉ်းဆဲခြင်း
ကို မကိုးစားကြနှင့်၊ အနိုင်အထက်လုယူ၍ မဝါ
ကြွားကြနှင့်၊ ဥစ္စာများပြားလျှင်စိတ်စွဲလမ်းခြင်း
၁၁ မရှိကြနှင့်။ ဘုရားသခင်သည်တကြိမ်ဗျာဒိတ်
ပေးတော်မူပြီ၊ နှစ်ကြိမ်မြောက်ငါကြားရသော
ဗျာဒိတ် တော် ဟူမူကား၊ တန်ခိုး သည် ဘုရား
၁၂ သခင်၌ရှိ၏။ ထိုထာဝရဘုရား၊ ကိုယ်တော်၌

ကရုဏာနှင့်ပြည့်စုံတော်မူ၏၊ကိုယ်တော်သည်
လူအသီးအသီး ထိုအသား၊ ဆုထို အကျင့်နှင့်အ
လျောက်အကျိုးအပြစ်ကိုဆပ်ပေးတော်မူ၏။

၆၃

ဣ ဒိ သည် ယုဒတော၌ရှိစဥ်အခါ ဆိုအပ်သော
ဆာလံ။

၁ အိုဘုရားသခင်၊ကိုယ်တော်သည်အကျွန်ုပ်၏
ဘုရားသခင် ဖြစ်တော်မူ၏၊ ကိုယ်တော်ကို ကြိုး
စား၍ ရှာပါ၏၊ ရေမရှိ၊ သွေ့ခြောက်သော လွင်
ပြင်၌ အကျွန်ုပ်၏ ဝိညာဉ်သည် ကိုယ် တော်ကို
ငတ်ပါ၏၊ အကျွန်ုပ်၏ ကိုယ်ခန္ဓာ သည်လည်း၊
ကိုယ်တော်ကို လွမ်းဆွတ် ပါ၏၊ ဘုန်းတန်ခိုး
အာနုဘော်တော် ကို မြင်ခြင်းငှါ၊သန့်ရှင်းရာဌာ
၂ နတော်၌ထိုသို့ ကိုယ်တော်ကိုဖူးမြော်ပါပြီ။-က
ရုဏာတော်သည် အသက်ထက် သာ၍ကောင်း
သောကြောင့်၊အကျွန်ုပ်၏နှုတ်သည်ကိုယ်တော်
၄ ကို ချီးမွမ်းရပါမည်။ ထိုသို့ အသက် ရှင်စဉ်
သွင်၊ ကိုယ် တော် ကို ကောင်းကြီး ပေးပါမည်၊
နာမတော်ကို အမှီပြု လျက်လက်ကို ချီပါမည်။-
အိပ်ရာ ပေါ်မှာ ကိုယ် တော်ကို အောင်း မေ့၍၊
၆ ညဥ့်ယံတို့၌ ကိုယ် တော်ကို ဆင် ခြင် လျက်နေ
သော အခါ၊ ဆီဥကိုရင်၊ ဆူသောအသားကိုရင်
စား၍ဝသကဲ့သို့၊ အကျွန်ုပ်၏ ဝိညာဉ်သည်ဝ၍
ရွှင် လန်းသော နှုတ် ခမ်း နှင့် အကျွန်ုပ် ၏ နှုတ်
၇ သည်ကိုယ်တော်ကို ချီးမွမ်းပါမည်။- အကျွန်ုပ်
ကိုမစတော် မူသောကြောင့်၊ အတောင်တော်အ
၈ ရိပ်၌ ဝမ်း မြောက်ပါမည်။- အကျွန်ုပ်၏ ဝိညာဉ်
သည် ကိုယ်တော်၌ မှီဝဲ၍၊ လက်ျာ လက်တော်
၉ သည် အကျွန်ုပ် ကို ထောက် မ တော် မူ ၏။- အ
ကျွန်ုပ် အသက်ကို ဖျက်ဆီးခြင်းငှါ ရှာသောသူ
တို့သည် မြေကြီး အောက် အရပ်သို့ ဆင်း ရကြ
မည်။ထားဘေးဖြင့်ဆုံး၍၊မြေခွေးစားရန်ဖြစ်ရ
၁၀ ကြလိမ့်မည်။- ရှင်ဘုရင်မူကား၊ ဘုရားသခင်၌
၁၁ ဝမ်း မြောက် လိမ့် မည်။- ဘုရား သခင် ကို တိုင်
တည်၍ ကျိန် ဆိုသော သူ အပေါင်း တို့သည် ဝါ
ကြွားကြလိမ့်မည်၊ မုသာ စကားကိုပြော သော
သူတို့၏နှုတ်မူကား၊ပိတ်လျက်ရှိလိမ့်မည်။

၆၄

၁ အိုဘုရား သခင်၊ အကျွန်ုပ် ဆုတောင်း သော
စကားသံကိုနားထောင်၍၊ အကျွန်ုပ်အသက်ကို
၂ ရန်သူဘေး မှ ကွယ်ကာစောင့်မတော်မူပါ။- ထူ
ထို၏ ထိုင်ပင် ရာမှ၎င်း၊ ရုန်းရင်းကို ပြုလေ့ရှိ
သောသူ တို့၏ စုဝေးရာမှ၎င်း၊ အကျွန်ုပ်ကိုကွယ်
ကာတော်မူပါ။
၃ ထိုသူတို့သည်မိမိတို့လျှာကို ထားကဲ့သို့သွေး
၄ တတ်ကြ၏၊ စုံလင်သောသူကို မထင်မရှားပြစ်
မည်အကြံနှင့်၊ ခါးသောစကားတည်းဟူသော
မိမိတို့မြှားကိုရွယ်တတ်ကြ၏၊မကြောက်မရွံ့ဘဲ
၅ ရုတ်ချည်းပြစ်တတ်ကြ၏။-မကောင်းသောအမှုမှာ
တယောက်ကိုတယောက် နှိုးဆော် တတ်ကြ၏၊
ကျော့ကွင်းတို့ကို ထောင်ထားခြင်းငှါ တိုင်ပင်
၍၊အဘယ်သူမြင်လိမ့်မည်နည်းဟု ဆိုတတ်ကြ
၆ ၏။-မတရားသောအမှုတို့ကိုကိုယ်အမှီစစ်ဆေး
ရှာဖွေတတ်ကြ၏၊ အကုန်အစင်စစ်ဆေးရှာဖွေ
တတ်ကြ၏၊ အသီးအသီး မိတ်နှစ်လုံးထဲမှာ ကြံ
၇ စည်သောအရာတို့သည်အလွန်နက်နဲကြ၏။-သူ
တို့၌ဘုရားသခင်ပြစ်တော်မူသောမြှားမှန်၍၊သူ
၈ တို့သည်အရှက်တကွဲနာကြလိမ့်မည်။- သို့ဖြစ်၍၊
မိမိတို့လျှာသည် မိမိတို့ကိုထိုက်စေ၍၊ မြင်သော
၉ သူအပေါင်းတို့သည်ပြေးသွားကြလိမ့်မည်။-လူ
အပေါင်းတို့ သည်လည်း ကြောက်ရွံ့၍၊ ဘုရား
သခင်စီရင်တော်မူကြောင်းကိုနားလည်သဖြင့်၊
၁၀ အမှုတော်ကို ကြားပြော ကြလိမ့်မည်။- ဖြောင့်
မတ်သောသူသည်ထာဝရဘုရား၌ဝမ်းမြောက်
၍ ခိုလှုံ လိမ့် မည်၊ သဘော ဖြောင့် သော သူ အ
ပေါင်းတို့သည်ဝါကြွားကြလိမ့်မည်။

၆၅

၁ အိုဘုရားသခင်၊ ဇိအုန်မြို့၌ကိုယ်တော်ရှေ့မှာ
ငြိမ်ဝပ်စွာနေ၍ ချီးမွမ်းရပါ၏၊ကိုယ်တော်အား
၂ ထည်းသစ္စာဝတ်ကို ဖြေရပါ၏။- ပဌနာစကား
ကိုနား ထောင်တော် မူသောဘုရား၊ ကိုယ်တော်
ထံသို့ လူ သား အ ပေါင်း တို့ သည် ချဉ်း ကပ်ရ
၃ ကြလိမ့်မည်။- မတရား သော အမှုသည်အလွန်
များ၍ အကျွန်ုပ်သည် မတတ် နိုင်ပါ၊ သို့သော်
လည်း၊ အကျွန်ုပ်တို့ ပြစ်မှားခြင်း အပြစ်များကို
၄ ကိုယ် တော် ဖြေရှင်း တော် မူမည်။- တန်တိုင်း
တော်အတွင်း၌ နေ၍၊ အထံတော်သို့ ချဉ်းကပ်
စေခြင်းငှါ၊ကိုယ်တော်ရွေးကောက်တော်မူသော
သူသည်မင်္ဂလာရှိပါ၏၊ သန့်ရှင်းသော ဗိမာန်
တော်တည်းဟူသောအိမ်တော်၌ကောင်းသော
အရာတို့နှင့် အကျွန်ုပ် တို့သည် ဝပြောကြ ပါစေ
သော။
၅ အကျွန်ုပ်တို့ကိုကယ်တင်တော်မူသောဘုရား။
အကျွန်ုပ် တို့၏ ပဌနာကို နားထောင်၍၊ ကြောက်ဘွယ်

သောအမှုတို့ကိုတရားတော်နှင့်အညီ ပြုတော်မူ
၏။ ကိုယ်တော်သည်ဝေးစွာသော မြေကြီးစွန်း
နှင့်၊ ပင်လယ်စွန်းတို့၌ နေသောသူတို့၏ကိုးစား
၆ ရာ ဖြစ်တော်မူ၏။- ကိုယ်တော်သည်တန်ခိုးနှင့်
ပြည့်စုံသဖြင့်၊ အားကြီး၍ တောင်များကိုတည်
၇ စေတော် မူ၏။- သမုဒ္ဒရာ မြည်သံ၊ လှိုင်း တံပိုး
ထုန်းသံ၊ လူတို့ ရုန်းရင်း ခတ် သံ များကို ထည်း
၈ ငြိမ်းစေတော်မူ၏။- အဝေးဆုံးသောအရပ်တို့၌
နေသောသူတို့သည် ကိုယ်တော်၏ နိမိတ်များကို
မြင်၍ကြောက်ရွံ့ကြပါ၏။နေထွက်ရာအရပ်နှင့်
နေဝင်ရာ အရပ် တို့ကို ရွှင်လန်း စေတော် မူ၏။-
၉ မြေကြီးကို အကြည့် အရှု ကြွလာ၍၊ မိုဃ်း ကို
ရွာ၊ စွာရွာ စေလျက်၊ ရေနှင့်ပြည့်သော ဘုရား
သခင်၏မြစ် အားဖြင့် အလွန်ကြွယ်ဝ စေတော်မူ
၏။ထိုသို့မြေကိုပြုပြင်ပြီးမှ၊မြေသားတို့အဖို့စပါး
၁၀ ထိုပြုပြင်တော် မူ၏။- မြေမှုန်းတို့ကို ရိုက်တ် စေ၍၊
ထယ်ကြောင်းကို တညီတည်းစီရင်ပြီးမှ၊ မိုဃ်း ရွာ
သော အားဖြင့် ပျော့စေ၍၊ ပေါက်သော အပင်
၁၁ များကို ကောင်းကြီး ပေးတော် မူ၏။- နှစ် တို့ကို
ကျေးဇူး တော်နှင့် ပတ်ရစ်တော် မူ၍၊ ခြေတော်
၁၂ ရာတို့ သည် ဆီဥ ယိုတတ် ကြ ပါ ၏။- တော တော
သောတောအရပ်တို့ထဲ၌ယို၍၊ တောင်တို့သည်
ထည်းပိတ်ခါ၊စည်းနှင့်စည်းလျက်ရှိကြပါ၏။-
၁၃ ကျက်စားရာ အရပ်တို့ သည် သိုးဆိတ် စုတို့ နှင့်
ပြည့်စုံလျက်၊ ထယ် ကြောင်းတို့ထည်း စပါး ပင်နှင့်
ထွမ်း မိုးလျက် ရှိ၍၊ ကျူး သော အသံနှင့် သီ
ချင်းဆိုကြပါ၏။

၆၆

၁ မြေကြီး သား အပေါင်း တို့၊ ဘုရား သခင် ရှေ့
၂ တော်၌ကျူး သော အသံကိုပြု၍- နာမတော်၏
ဂုဏ်ကို သီချင်း ဆိုကြ လော့၊ ချီး မွမ်း ခြင်း ၏
၃ ဂုဏ် အသရေကိုပြုကြလော့။-ကိုယ်တော်စီရင်
သောအမှုတို့သည်အလွန်အံ့ဩဘွယ် ဖြစ်ကြ
ပါ၏။ တန်ခိုးတော်ကြီးသောကြောင့်၊ ရန်သူတို့
သည်ကိုယ်တော်ကိုတောင်းပန်ကြပါလိမ့်မည်။-
၄ မြေကြီးသား အပေါင်း တို့သည် ကိုယ်တော်ကို
ကိုး ကွယ်၍၊ သီချင်း ဆိုကြ ပါစေ သော၊ နာမ
တော်အား သီချင်းဆိုကြပါစေသောဟု၊ ဘုရား
၅ သခင် အား လျှောက် ထား ကြ လော့။- ဘုရား
သခင် စီရင် တော် မူ သောအမှု တော် ကိုလာ ၍
ကြည့်ကြ လော့။ လူသား တို့တွင် စီရင် တော်မူ
၆ သောအမှုတို့သည်အံ့ဩဘွယ်ဖြစ်ကြ၏။-ပင်
လယ်ကို ကုန်းဖြစ်စေတော် မူ၏။ သူတို့သည်ရေ
စီးရာအရပ်ကိုခြေဖြင့် ရှောက်သွားကြသည်ဖြစ်
၍၊ငါတို့သည်ဘုရားသခင်၌ဝမ်းမြောက်ကြ၏။-
၇ တန်ခိုးတော်အားဖြင့်အစဉ်အမြဲအုပ်စိုးတော်
မူ၏။ မျက်စိတော်သည်လူအမျိုးမျိုးတို့ကိုကြည့်
ရှုသည် ဖြစ်၍၊- ငြင်းဆန်သော သူတို့သည် မဝါ
၈ ကြွား ကြစေ နှင့်။- အချင်း လူစုတို့၊ ငါတို့ ဘုရား
သခင်ကိုကောင်းကြီး ပေးကြလော့၊ ဂုဏ် ကျေး
ဇူး တော်ကို ချီးမွမ်း သော စကား သံနှင့် ကျေး
၉ ကြော်ကြလော့။- ငါတို့အသက်ကိုမသေစေမည်
အကြောင်း နှင့်၊ ခြေကိုလည်း မချော်စေမည် အ
ကြောင်းစောင့်မတော်မူ၏။
၁၀ အိုဘုရားသခင်၊ကိုယ်တော်သည်အကျွန်ုပ်တို့
ကို စုံစမ်းတော်မူပြီ။ ငွေကို စစ်ဆေး သကဲ့သို့ အ
၁၁ ကျွန်ုပ်တို့ကိုစစ်ဆေးတော်မူပြီ။- ကျော့ကွင်း ထဲ
မှာကျော့မိစေ၍၊ ကျောက် ကုန်း ပေါ်မှာ ထေး
၁၂ သောဝန်ကိုတင်တော်မူပြီ။- အကျွန်ုပ်တို့ခေါင်း
ပေါ်မှာသူတပါးကိုစီးစေတော်မူပြီ။ မီး၌၎င်း၊ရေ
၌၎င်းသွားရသော်လည်း၊ကျေးဇူးတော်ကြောင့်
၁၃ ကြွယ်ဝ ခြင်းသို့ ရောက်ကြ ပါ၏။- မီးရှို့ရာသော
ယဇ်ပူဇော်လျက် အိမ်တော် သို့ အကျွန်ုပ် သွားပါ
၁၄ မည်။- ဆင်းရဲခံရစဉ်အခါ၊အကျွန်ုပ်သည်နှုတ်
ကိုဖွင့်၍ မြွက်ဆိုသည် အတိုင်း၊ သံဿုဝတ်ကို
၁၅ ဖြေပါမည်။- ဆူဖြိုးသောသိုးတို့ကို၎င်း၊သိုးပေါက်
နှင့်တကွ မီးရှို့ရာယဇ်ပြု၍ ပူဇော်ပါမည်။ နွား
နှင့်ဆိတ်တို့ကိုလည်းစီရင်ပါမည်။
၁၆ ဘုရားသခင်ကိုကြောက်ရွံ့သောသူအပေါင်း
တို့၊ လာ၍ နားထောင် ကြလော့၊ ငါ့ဝိညာဉ်အဖို့
အထယ် သို့ကျေးဇူးပြုတော်မူသည်ကိုငါကြား
၁၇ ပြောမည်။- ငါသည် ဘုရားသခင်ကို နှုတ် နှင့်
အော်ဟစ်၍၊ ဂုဏ်တော် ကိုလည်း လျှာနှင့် ချီး
၁၈ မွမ်းရပြီ။- ငါသည် စိတ်နှလုံးထဲမှာ ဒုစရိုက်
ကိုငဲ့ကွက်လျှင်၊ဘုရားရှင်သည်နားထောင်တော်
၁၉ မမူ။-သို့မှုကား၊ဘုရားသခင်သည်နားထောင်
၍၊ ငါမြွက် ဆို သော ပဌနာ စကား သံ ကို မှတ်
၂၀ တော်မူပြီ။-ငါမြွက်ဆိုသောပဌနာကိုပယ်တော်
မမူ၊ ကျေးဇူး တော်ကို ငါ့မှ ရုပ်သိမ်း တော်မမူ
သောဘုရားသခင်သည် မင်္ဂလာရှိတော် မူစေသော
တည်း။

၆၇

၁ ဘုရားသခင်သည် အကျွန်ုပ်တို့ကိုသနားခြင်း
ကရုဏာစိတ်တော်ရှိသဖြင့်၊ကောင်းကြီးပေး၍

မျက်နှာတော်၏ အလင်းကို ထွန်းတော် မူပါစေ
၂ သော။- ထိုသို့သော အားဖြင့် မြေကြီးသားတို့
သည် အမှုတော်တို့ကို သိ၍၊ ခပ်သိမ်းသော လူ
မျိုးတို့သည် ကယ်တင်တော်မူခြင်း ကျေးဇူးကို
၃ ခံရကြပါစေသော။- အိုဘုရားသခင်၊ လူများတို့
သည် ကိုယ်တော်ကို ချီးမွမ်းကြပါစေသော။ လူ
များအပေါင်းတို့သည် ကိုယ်တော်ကို ချီးမွမ်း
၄ ကြပါစေသော။- လူအမျိုးမျိုးတို့သည် ဝမ်း
မြောက်၍ ရွှင်လန်းစွာ သီခြင်းဆိုကြပါစေ
သော။ အကြောင်းမူကား၊ ကိုယ်တော်သည်လူ
တို့ကိုဖြောင့်မတ်စွာ တရားစီရင်၍၊ မြေကြီးပေါ်
မှာရှိသော လူမျိုးတို့ကို ချမ်းသာပေးတော်မူ
၅ မည်။- အိုဘုရားသခင်၊ လူများတို့သည် ကိုယ်
တော်ကို ချီးမွမ်းကြပါစေသော။ လူများအ
ပေါင်းတို့သည် ကိုယ်တော်ကိုချီးမွမ်းကြပါစေ
၆ သော။- မြေသည် မိမိအသီးအပွင့်ကို ပေး၍၊ ဘုရား
သခင်တည်းဟူသော ငါတို့၏ဘုရားသခင်သည်
၇ ငါတို့ကို ကောင်းကြီးပေးတော်မူ၏။- ဘုရား
သခင်သည်ငါတို့ကို ကောင်းကြီးပေးတော်မူ၍၊
မြေကြီးစွန်း အပေါင်းတို့သည် လည်း၊
ဘုရားသခင်ကိုကြောက်ရွံ့ကြလိမ့်မည်။

၆၈

၁ ဘုရားသခင် ထတော်မူ၍၊ ရန်သူတို့သည်အ
ရပ်ရပ်သို့ ကွဲပြားကြပါစေသော။ ဘုရားသခင်
ကိုမုန်းသောသူတို့သည် အထံတော်က ပြေးကြ
၂ ပါစေသော။- မီးခိုးလွင့်သကဲ့သို့ သူတို့ကို လွှင့်
တော်မူပါ။ ဖယောင်းသည်မီးရှေ့မှာအရည်ဖြစ်
သကဲ့သို့၊ မတရားသောသူတို့သည်ဘုရားသခင်
၃ ရှေ့တော်မှာပျက်စီးကြပါစေသော။-ဖြောင့်မတ်
သောသူတို့သည် ဝမ်းမြောက်၍၊ ဘုရားသခင်
ရှေ့တော်မှာရွှင်လန်းသောစိတ်နှင့် အလွန်ဝမ်း
၄ မြောက်ဝမ်းသာကြပါစေသော။- ဘုရားသခင်
အားသီချင်း ဆိုကြလော့။ နာမတော်ကို ထောမ
နာသီချင်းဆိုကြလော့။ တော၌စီး၍ကြွတော်မူ
သောအရှင်ဘို့လမ်းကိုပြင်ကြလော့။ ထိုအရှင်၏
နာမတော်ကား၊ ယာဝရဘုရားတည်း။ ရှေ့တော်
၅ ၌ရွှင်လန်းကြလော့။-ဘုရားသခင်သည်သန့်ရှင်း
သော ဘုံဗိမာန်တော်၌ စံပယ်လျက်၊ မိဘမရှိ
သော သူတို့၏ အဘဖြစ်၍၊ မုဆိုးမတို့ ထက်မှာ
၆ တရားစီရင်တော်မူ၏။-ဘုရားသခင်သည်ပေါက်
ဖော်မရှိသော သူတို့အား အိမ်ထောင်ချခြင်း အ
ခွင့်ကို ပေးတော်မူ၍၊ ချုပ်ထားသော သူတို့ကို
လည်း၊ ကြွယ်ဝခြင်းထဲသို့ ထုတ်ဆောင်တော်မူ၏။ ပြစ်မှား
ဆန်သောသူတို့မူကား၊ သွေ့ခြောက်သောအရပ်
၌နေရကြ၏။
၇ အိုဘုရားသခင်၊ ကိုယ်တော်၏လူစုရှေ့မှာကြွ
၈ ၍၊ တော၌ ရှိတော်မူသောအခါ- ဘုရားသခင်
၏မျက်နှာတော်ကြောင့်၊ မြေကြီးလှုပ်၍မိုဃ်း
ကောင်းကင်သည်ပင်ယိုစီး၏။ ဣသရေလအမျိုး
၏ ဘုရားသခင် မျက်နှာတော်ကြောင့်၊ သိနာ
၉ တောင်သည်လည်း တုန်လှုပ်၏။- အိုဘုရား
သခင်၊ ကိုယ်တော်သည်မိုဃ်းကိုများစွာရွာစေ
၍၊ ပင်ပန်းသောအမွေတော် လူတို့ကိုထောက်မ
၁၀ တော်မူ၏။-ကိုယ်တော်၏အလုံးအရင်းသည် နေ
ရာကျရကြပါ၏။ အိုဘုရားသခင်၊ ဆင်းရဲသော
သူတို့အဖို့ကျေးဇူးတော်အားဖြင့်ပြင်ဆင်တော်
၁၁ မူ၏။- ဘုရားရှင် အမိန့်တော်ရှိ၍၊ ဝမ်းမြောက်
စရာ သိတင်းကို ကြားပြောသော သူတို့သည် အ
၁၂ လိုင်းမသိများကြ၏။- စစ်အင်္ဂါ ဗိုလ်ခြေ သခင်
ရှင်ဘုရင်တို့သည် အလျင်အမြန်ပြေးကြ၍၊ အိမ်
၌နေရစ်သော မိန်းမတို့သည်လည်း ဥစ္စာကိုဝေမျှ
၁၃ ကြ၏။- သင်တို့သည် တောင်ကြားမှာ နေရကျ
လျက်၊ ငွေနှင့်မွမ်းမံသောချိုးငှက် အတောင်ကဲ့
သို့၎င်း၊ နီသောရွှေနှင့်မွမ်းမံသော အမွေးကဲ့သို့
၁၄ ၎င်း ဖြစ်ကြလိမ့်မည်။- အနန္တတန်ခိုးနှင့်ပြည့်စုံ
တော်မူသော ဘုရားသည်၊ ရှင်ဘုရင်တို့ကိုကွဲ
ပြားစေတော်မူသော အရပ်သည် ဇာလမုန်
တောင်ပေါ်မှာမိုဃ်းပွင့်ကဲ့သို့ဖြစ်ရသတည်း။
၁၅ ဘုရားသခင်၏ တောင်တည်းဟူသော ဗာရှန်
တောင်၊ မြင့်သော ထိပ်များနှင့် ပြည့်စုံသောဗာ
၁၆ ရှန်တောင် တို့၊- သင်တို့ သည် မြင့်သော တောင်
ထိပ်များနှင့်ပြည့်စုံသော်လည်း၊ ဘုရားသခင်ကျိန်း
ဝပ်ခြင်းငှါ အလိုရှိတော်မူသောတောင်၊ ယာဝရ
ဘုရားသည် အစဉ်အမြဲ နေရာ ချတော် မူသော
တောင်တော်ကို အထင်ကြောင့် စောင်းမြောင်း
၁၇ ကြသနည်း။- ဘုရားသခင်၏ ရထားတော်တို့
သည်အထောင်အသောင်းမကများကြ၏။ ဘုရား
ရှင် ပါတော်မူ၏။ သိနာ တောင်၌လည်း၊ သန့်ရှင်း
၁၈ ရာ ဌာနတော်၌ ရှိသတည်း။- ကိုယ်တော်သည်
မြင့်သောအရပ်သို့ တက်ကြွတော်မူသဖြင့်၊ များ
စွာသော သူတို့ကို ဖမ်းသွားတော်မူ၍၊ ယာဝရ
အရှင် ဘုရားသခင်သည် လူတို့တွင် ကျိန်းဝပ်
တော် မူမည် အကြောင်း၊ လူတို့ အမှီ မကား၊ ပုန်
ကန်သော လူတို့အမှီ ဆုလပ် များကို ခံရတော်မူ

၁၉ ပြီ။-ထာဝရဘုရားသည် အစဉ်မင်္ဂလာ ရှိတော်
မူစေသတည်း။ငါတို့ကိုသူတပါးညှဉ်းဆဲသော
၂၀ အခါ၊ဘုရားသခင်ကယ်တင်တော်မူ၏။-ငါတို့၏
ဘုရားသခင်သည်ကယ်တင်နိုင်သောဘုရားဖြစ်
တော်မူ၏။ ဘုရားရှင် ထာဝရ ဘုရားသည် သေ
ခြင်းသို့ ရောက် သော ထမ်းကို ထည်း အစိုး ပိုင်
၂၁ တော် မူ၏။- ဘုရား သခင် သည် မိမိ ရန်သူ တို့၏
ဦးခေါင်းကိုငှင်၊ အပြစ်ပြု မြဲပြု သောသူတို့၏ ဦး
ခေါင်းကိုငှင် ကေန်အမှန်ရိုက်ချိုးတော်မူမည်။-
၂၂ သူတို့ကိုဗာရှန်ပြည်ကငါဆောင်ခဲ့ဦးမည်၊နက်
၂၃ နဲသောပင်လယ်ထဲက ငါဆောင်ခဲ့ဦးမည်။- ထို
သို့သောအားဖြင့်သင်သည်ရန်သူတို့အသွေးကို
နင်း၍၊ သင်၏ခွေးတို့သည်လည်းလျက်ကြလိမ့်
မည်ဟုထာဝရဘုရားမိန့်တော်မူ၏။
၂၄ အို ဘုရား သခင်၊ သန့် ရှင်းရာ ဌာန သို့ ကိုယ်
တော်ကြွတော်မူခြင်း။ အကျွန်ုပ်၏ ဘုရားသခင်၊
အကျွန်ုပ်၏ ရှင် ဘုရင် ကြွ တော် မူခြင်း ကို မြင်ရ
၂၅ ကြပါပြီ။-ရှေ့၌ကားသီခြင်းဆိုသောသူ၊နောက်
၌ ကား၊ စောင်း အ မျိုး မျိုး ကိုတီး သောသူ၊ အ
ထယ်၌ကား၊ပတ်သာကိုတီးသောအပျိုတို့သည်
၂၆ လိုက်သွားကြပါ၏။- ဣသရေလအမျိုးသားတို့၊
ပရိသတ် အ စည်း အ ဝေး တို့၌ ထာဝရ အရှင်
ဘုရား သခင် ကို ကောင်း ကြီး ပေး ကြ လော့။-
၂၇ အစိုးရသော ဗင်္ယာမိန် ငယ်မှစ၍၊ မိမိအလုံးအ
ရင်းနှင့်တကွယုဒမင်းများ၊ ဇာဗုလုန်မင်းများ၊
၂၈ နဿလိ မင်း များ ပါ ကြ ၏။- အို ဘုရား သခင်၊
တန်ခိုး တော်ကို ပြ တော် မူပါ။ အို ဘုရားသခင်၊
အကျွန်ုပ်တို့၌ ပြုသော ကျေး ဇူး တော် ကို တည်
၂၉ စေတော်မူပါ။- ယေရုရှလင်မြို့၌ ရှိသော ဗိမာန်
တော်အမှီ ရှင်ဘုရင်တို့သည် ကိုယ်တော် ထံသို့
လက်ဆောင် များကို ဆောင်ခဲ့ ကြပါ စေသော။-
၃၀ ကျူ တောသားရဲကိုငှင်၊ နွားလားဥသဘ အစု
အဝေးနှင့်လူမျိုးတို့၏နွားပျိုတို့ကိုငှင်ဆုံးမတော်
မူသခြင်၊ အသီး အသီး တို့သည်ငွေစနှင့် ကိုယ်
ကိုနှိမ့်ချကြ ပါစေသော၊ စစ်မှုကိုနှစ်သက်သော
လူမျိုးတို့ကိုအရပ်ရပ်သို့ကွဲပြားစေတော်မူပါ။-
၃၁ အဲဂုတ္တုပြည်မှ သံတမန်တို့သည် လာကြ ပါစေ
သော၊ ကုရှ ပြည်သည် မိမိ လက်တို့ကို ဘုရား
သခင် ထံ တော် သို့ အ လျင် အမြန် ဆန့် ရ ပါစေ
၃၂ သော။- မြေကြီးနိုင်ငံတို့၊ ဘုရားသခင်ရှေ့တော်
၃၃ ၌ သီ ခြင်း ဆို ကြ လော့၊ အစ အဦး ၌ အထက်
ကောင်း ကင် ဘဝတ် ကို စီး၍ နေ တော် မူ သော
ထာဝရဘုရားကိုသောစနာသီချင်းဆိုကြလော့။
အသံ တော်ကို လွှတ်တော် မူ၍၊ အား ကြီးသော
၃၄ အသံ ဖြစ်၏။- ဘုရား သခင် သည် တန်ခိုး ကြီး
တော်မူသည်ဟု ဝန်ခံ ကြလော့၊ ဣသရေလ အ
မျိုးကို ထုန်းတော် လွှမ်းမိုးလျက်၊ တန်ခိုးတော်
သည်း မိုဃ်း တိမ် ထဲတွင် ထင်ရှား လျက် ရှိသ
၃၅ တည်း။- အိုဘုရားသခင်၊ ကိုယ်တော်သည်သန့်
ရှင်းရာ ဌာန တော်ပြင်မှာ ကြောက် ရွံ့ ဖွယ် ဖြစ်
တော်မူ၏၊ ဣသရေလအမျိုး၏ဘုရားသခင်ထား၊
မိမိလူတို့အား အ စွမ်း တန်ခိုးကို ပေးတော်မူသော
ဘုရား ပေတည်း။ ဘုရားသခင်သည် မင်္ဂလာ ရှိ
တော်မူစေသတည်း။

၆၉

၁ အကျွန်ုပ်ကိုကယ်ယူတော်မူပါဘုရား၊ရေထစ်
အကျွန်ုပ် အသက်ပိညည် တိုင်အောင် ရောက်ပါ
၂ ပြီ။-ခြေနင်းရာမရှိ၊ နက်လှသော ရွံ့ထဲမှာနစ်ပါ
ပြီ၊ လှိုင်းတံပိုး လွှမ်းမိုးရာ နက်သော ရေထဲသို့
၃ ရောက်ပါပြီ။- အော် ဟစ်၍ပင်ပန်းပါပြီ၊ လည်
ချောင်း ခြောက် ပါပြီ၊ အကျွန်ုပ်၏ ဘုရား သခင်
၄ ကိုအကျွန်ုပ်မျှော်ကြည့်၍မျက်စိမှုန်ပါပြီ။- အ
ကြောင်း မ ရှိ ဘဲ အကျွန်ုပ်ကို မုန်း သော သူ တို့
သည် အကျွန်ုပ်၏ ဆံပင် ထက် များကြ ပါ၏၊ မ
လုတ် မမှန် ဘဲ အကျွန်ုပ်ကို ရန်ဘက် ပြု၍ ဖျက်
ဆီးသော သူတို့သည် ခွန်အား ကြီးကြပါ၏၊ ထို
အခါ အကျွန်ုပ်သည် မယူသော ဥစ္စာကိုပင် ပြန်
ပေးရပါ၏။
၅ အို ဘုရားသခင်၊ အကျွန်ုပ် မိုက် ခြင်း အမှု ကို
ကိုယ်တော် သိတော် မူ၏၊ အကျွန်ုပ်၏ အပြစ်တို့
၆ ကိုရှေ့တော်၌ ဖုံး၍မထားရပါ။- ကောင်းကင်
ဗိုလ်ခြေသခင်အရှင်ထာဝရဘုရား၊ကိုယ်တော်
ကို မျှော် လင့် သော သူ တို့ သည် အကျွန်ုပ် အ
ကြောင်းကြောင့် မိတ်မပျက်ကြပါစေနှင့်၊ ဣသ
ရေလ အမျိုး၏ ဘုရားသခင်၊ ကိုယ်တော်ကို ရှာ
သောသူတို့သည် အကျွန်ုပ် အကြောင်း ကြောင့်
ရှက်ကြောက်ခြင်းသို့မရောက်ကြပါစေနှင့်။
၇ ကိုယ်တော်အတွက် အကျွန်ုပ်သည်ကဲ့ရဲ့ခြင်း
ကိုခံရပါ၏၊ အကျွန်ုပ်မျက်နှာသည်ရှက်ခြင်းနှင့်
၈ ပြည့်နှံ့ပါ၏။- ကိုယ်ညီအစ်ကိုတို့တွင်၊ လူမိမ်း
ဖြစ်ခဲ့ပါပြီ၊တမိတည်းသောပေါက်ဖော်တို့တွင်၊
၉ တကျွန်းတနိုင်ငံသားဖြစ်ခဲ့ပါပြီ။- ကိုယ်တော်
၏အိမ်တော်၌ စွဲလမ်း ပူပန်ခြင်း၊ မိတ်သည် အ
ကျွန်ုပ်ကိုစားပါ၏၊ကိုယ်တော်ကို ကဲ့ရဲ့သောသူ

ထို့ကြောင့် ကဲ့ရဲ့သောသူတို့သည် အကျွန်ုပ်အပေါ်သို့ ရောက်ပါ
၁၀ ၏။- အကျွန်ုပ်သည် ငိုကြွေး၍ ပြဲ နှစ် လုံးပါ
လျှော်၊ အစာရှောင်သော အကျင့်ကြောင့်ပင် ကဲ့
၁၁ ရဲ့ခြင်းကို ခံရပါ၏။- လျှော်တေ အဝတ်ကိုဝတ်
သောအခါ၊ သူတို့သည်အရော်တတ်ကြပါ၏။-
၁၂ မြို့တံခါး ထိုင်သော သူတို့သည် အကျွန်ုပ်တဖက်မှာ
ပြောဆို၍၊ သေသောက်ကြူးတို့သည် အကျွန်ုပ်
ကို အကြောင်းပြု၍ တေး သီချင်း ဆို တတ်ကြ
ပါ၏။
၁၃ အိုထာဝရဘုရား၊ အကျွန်ုပ်မူကား၊ မင်္ဂလာ
အချိန်ကာလ၌ ကိုယ်တော်ကို ဆုတောင်းပါ၏။
အို ဘုရားသခင်၊ ကရုဏာတော် ကြွယ်ဝသည်
နှင့်အညီ၊ ကယ်တင်တော်မူခြင်းသစ္စာအတိုင်း၊
၁၄ အကျွန်ုပ် စကားကို နားထောင်တော်မူပါ။- အ
ကျွန်ုပ်ကို ရွှံ့ထဲက ကယ်နှုတ်တော်မူပါ။ နစ်စေ
တော်မမူပါနှင့်။ အကျွန်ုပ်ကို မုန်းသော သူတို့
ထက်မှ၎င်း၊ နက်သော ရေထဲက၎င်း လွှတ်ပါစေ
၁၅ သော။- ရေထ၍မလွှမ်းပါစေနှင့်၊ နက်နဲရာ၌ မ
မြုပ်ပါစေနှင့်၊ အကျွန်ုပ်အပေါ်မှာတွင်းဝမပိတ်
၁၆ ပါစေနှင့်။- အိုထာဝရ ဘုရား၊ ကျေးဇူး ပြုချင်
သော စေတနာတော်သည် ကောင်းမွန်သော
ကြောင့်၊ အကျွန်ုပ်စကားကို နားထောင်တော်မူ
ပါ။ နှိမ့်ချတော်မူခြင်း ကရုဏာ များပြားသည်
နှင့်အညီ၊ အကျွန်ုပ်ကို မျက်နှာ ပြုတော်မူပါ။-
၁၇ ကိုယ်တော်၏ ကျွန်မှ မျက်နှာတော်ကို ထွဲတော်မ
မူပါနှင့်။ ဆင်းရဲ၍ နေပါ၏။ အလျင် အမြန် နား
၁၈ ထောင်တော်မူပါ။- အကျွန်ုပ်၏အသက်ဝိညာဉ်
သို့ချဉ်းကပ်၍ ရွေးတော်မူပါ။ ရန်သူ များ ရှိ
ကြောင်းကိုထောက်၍ချမ်းသာ ပေးတော်မူပါ။-
၁၉ အကျွန်ုပ်ခံရသောကဲ့ရဲ့ခြင်း၊ အရှက်ကွဲခြင်း၊ အ
သရေပျက်ခြင်းတို့ကို ကိုယ်တော်သည် သိတော်
မူ၏။ အကျွန်ုပ်၏ ရန်သူ အပေါင်း တို့ သည် ရှေ့
၂၀ တော်၌ ထင်ရှား လျက် ရှိကြ ပါ၏။- ကဲ့ရဲ့ခြင်း
အားဖြင့် အကျွန်ုပ် သည် စိတ် ပျက်၍ အလွန် ပူ
ဆွေးခြင်း ရှိပါ၏။ သနား သော သူကို ကြည့်၍မ
မြင်၊ သက်သာစေသော သူကို ရှာ၍ မတွေ့ရပါ။-
၂၁ အကျွန်ုပ် စား စရာ အဆိပ်ဆေးခါးကို ကျွေးကြပါ၏။
၂၂ ရေငတ်သောအခါ ပုံးရည်ကိုတိုက်ကြပါ၏။ သူ
တို့စားပွဲသည်သူတို့ရှေ့မှာကျော့ကွင်းသော်၎င်း၊
ခံထိုက် သော အပြစ် သော်၎င်း၊ ထောင် ချောက်
၂၃ သော်၎င်းဖြစ်ပါစေ။- သူတို့သည် မမြင်နိုင်အောင်
မျက်စိကွယ်ပါစေ။ သူတို့ခါးသည်လည်းအစဉ်
၂၄ တုန်ပါစေ။- သူတို့ အပေါ်မှာ အမျက် တော် ကို
သွန်းလောင်းတော်မူ၍၊ အမျက်တော်အရှိန်သည်
၂၅ သူတို့ကို မှီပါစေ။- သူတို့နေရာ အရပ်သည် လူ
ဆိတ် ညံရာ အရပ် ဖြစ် ပါစေ၊ သူတို့ အိမ်၌ နေ
၂၆ သောသူမရှိပါစေနှင့်။- အကြောင်းမူကား၊ သူတို့
သည် ဒဏ်ခတ်တော်မူသောသူကို ညှဉ်းဆဲကြ
ပါ၏။ နာစေတော် မူသော သူတို့ကိုထပ်၍ နာစေ
၂၇ ကြပါ၏။- သူတို့အပြစ်၌ အပြစ်ကို ထပ်၍ ပေး
တော်မူပါ။ ကျေးဇူးတော် နှင့် မဆိုင် ကြပါစေ
၂၈ နှင့်။- အသက်ရှင်သောသူတို့စာရင်း၌သူတို့နာ
မည် များကို ချေ၍၊ ဖြောင့်မတ်သော သူတို့ နှင့်
၂၉ အတူ မရေးမှတ်ပါစေနှင့်။- အကျွန်ုပ်မူကား၊
ဆင်းရဲ ပြင်းပါ၏။ အိုဘုရားသခင်၊ ကယ်တင်
တော်မူခြင်းကျေးဇူးသည်အကျွန်ုပ်ကိုချီးမြှင့်ပါ
စေသော။
၃၀ ငါသည် ဘုရားသခင်၏ နာမတော်ကို သီခ
နာသီခြင်းဆိုမည်၊ ကျေးဇူးတော်ကိုပြ၍ဘုရား
၃၁ သခင်ကိုချီးမွမ်းမည်။- ထာဝရဘုရားသည်မြို
နှင့်၎င်း၊ ဦးချိုနှင့်၎င်းပြည့်စုံသော နွားလားကို နှစ်
သက်သည်ထက်၊ ထိုအကျင့်ကိုသာ၍နှစ်သက်
၃၂ တော်မူလိမ့်မည်။- နှိမ့်ချသောသူတို့သည်မြင်၍
ဝမ်းမြောက် ကြ လိမ့်မည်။ ဘုရား သခင်ကို ရှာ
သောသူတို့၏ စိတ်နှလုံးသည် အားပြည့် လိမ့်
၃၃ မည်။- ထာဝရ ဘုရားသည် ဆင်းရဲသော သူတို့
၏စကား ကို နား ထောင် တော် မူ၏။ အချုပ် ခံရ
သောမိမိလူတို့ကို မထီမဲ့မြင် ပြုတော် မမူတတ်။-
၃၄ ကောင်းကင်၊ မြေကြီး၊ သမုဒ္ဒရာ တို့နှင့် တကွ အ
ရပ်ရပ်၌ ကျင်လည်သော သတ္တဝါ အပေါင်း တို့
သည် ဘုရားသခင်ကို ချီး မွမ်း ကြပါစေသော။-
၃၅ ဘုရားသခင်သည် ဇိအုန်မြို့ကို စောင့်၍၊ ယုဒမြို့
ထို့ကိုပြုစုတော်မူသဖြင့်၊ ထိုသူတို့သည်နေ၍ပိုင်
၃၆ ရကြလိမ့်မည်။- ကျွန်တော်မျိုး၏ သား မြေးတို့
သည် ထိုမြို့ကို အမွေခံရ၍၊ နာမတော် ကိုချစ်
သောသူတို့သည်နေရာကျရကြလိမ့်မည်။

## ၇၀

အောက်မေ့စေခြင်းငှါ ဒါဝိဒ်စပ်ဆိုသော ဆာလံ။

၁ အိုဘုရားသခင်၊ အကျွန်ုပ်ကို ကယ်နှုတ်တော်မူ
ပါ။ အို ထာဝရဘုရား၊ အကျွန်ုပ်ကို မစခြင်းငှါ
၂ အလျင်အမြန် ပြုတော်မူပါ။- အကျွန်ုပ်အသက်
ကိုသတ်ခြင်းငှါရှာကြသောသူတို့သည် အရှက်
ကွဲ၍ မျက်နှာ ပျက်ကြ ပါစေသော။ အကျွန်ုပ်၌
အန္တရာယ် ပြုချင်သောသူတို့သည် လှန်ခြင်းကိုခံ

ရှုံး၍၊ ရှက်ကြောက်ခြင်းသို့ ရောက်ကြပါစေ
၃ သော။- အကျွန်ုပ်ကို ဟေ့ဟေ့၊ ဟေ့ဟေ့ဟု ဆို
သောသူတို့သည်အရှက်ကွဲခြင်းအားဖြင့်နောက်
၄ သို့ဆုတ်ခြင်းကို ခံရကြပါစေသော။- ကိုယ်တော်
ကို ရှာသော သူအပေါင်း၊ တို့သည် ကိုယ်တော်၌
ဝမ်းမြောက်ရွှင်လန်းကြပါစေသော၊ ကယ်တင်
တော်မူခြင်း ကျေးဇူးကို နှစ်သက် သော သူတို့
သည်ဘုရားသခင်ဘုန်းကြီးတော်မူစေသတည်း
၅ ဟု၊ အစဉ်မပြတ်ပြောကြပါစေသော၊ အကျွန်ုပ်
မူကား၊ ဆင်းရဲငတ်မွတ် ပါ၏၊ အိုဘုရားသခင်၊
အကျွန်ုပ် ရှိရာ သို့ အလျင် အမြန် ကြွတော် မူပါ၊
ကိုယ်တော်သည်အကျွန်ုပ်တို့မစသောသူ၊ကယ်
တင် သော သူဖြစ် တော် မူ၏၊ အိုထာဝရဘုရား၊
ဆိုင်းထင့်တော်မမူပါနှင့်။

၇၁

၁ အိုထာဝရဘုရား၊ ကိုယ်တော်ကို အကျွန်ုပ်မှီ
ခိုပါ၏၊အရှက်ကွဲခြင်းနှင့်အစဉ်ကင်းလွတ်ပါ
၂ စေသော။- တရားတော်နှင့်အညီ အကျွန်ုပ်ကို
ချွတ်ထုတ်၍ လွှတ်တော်မူပါ၊ နားတော်ကို အ
၃ ကျွန်ုပ်ဘက်သို့လှည့်၍ကယ်တင်တော်မူပါ။-အ
ကျွန်ုပ်အစဉ်ရောက်၍ နေရာကျသော ကျောက်
ဖြစ်တော် မူပါ၊ အကျွန်ုပ်ကို ကယ်တင်မည် အ
ကြောင်း၊ အမိန့်တော်ရှိ၍၊ အကျွန်ုပ်၏ကျောက်၊
၄ အကျွန်ုပ်၏ ခဲ ထိုက် ဖြစ်တော်မူ၏။- အကျွန်ုပ်၏
ဘုရားသခင်၊ ဆိုးသောသူ၏လက်မှ၎င်း၊ မတရား
သောသူနှင့်ကြမ်းတမ်းသောသူ၏လက်မှ၎င်းအ
၅ ကျွန်ုပ်ကို ကယ်နှုတ်တော်မူပါ။- အရှင်ထာဝရ
ဘုရား၊ ကိုယ်တော်သည်အကျွန်ုပ်မျှော်လင့်ရာ
ဖြစ်တော်မူ၏၊အကျွန်ုပ်ငယ်သောအရွယ်မှစ၍၊
၆ အကျွန်ုပ် ကိုးစားရာ ဖြစ် တော် မူ၏။- အကျွန်ုပ်
သည် ဖွားကတည်းကပင် ကိုယ်တော်ကို မှီဝဲပါ
ပြီ၊ အမိဝမ်းထွင်းမှစ၍ ကျေးဇူးတော်ကိုခံရပါ
၇ ပြီ၊ ကိုယ်တော်ကို အစဉ် ချီးမွမ်းပါမည်။- အ
ကျွန်ုပ်သည် များစွာသော သူတို့၌ အံ့ဩဖွယ်သော
အရာကဲ့သို့ ဖြစ်သော်လည်း၊ ကိုယ်တော်သည်
အကျွန်ုပ်၌ ခိုင်ခံ့သော ခိုလှုံရာ ဖြစ် တော် မူ၏။-
၈ ဂုဏ် အသရေ တော်နှင့် ရှည်သော ထောမနာ
စကားကို အကျွန်ုပ်သည် နေ့တိုင်းအစဉ်မြွက်
၉ ဆိုပါစေသော၊- အကျွန်ုပ်ကို အိုသောအခါ ပယ်
တော် မမူပါနှင့်၊ အား လျော့သောအခါ စွန့်ပစ်
၁၀ တော်မမူပါနှင့်။-ရန်သူတို့သည်အကျွန်ုပ်တစ်ဘက်
၌ပြောဆိုကြပါ၏၊ အကျွန်ုပ်အသက်ကို ချောင်း
၁၁ ကြည့်သောသူတို့က- ဘုရားသခင်သည် သူ့ကို
စွန့်ပစ်တော်မူ၏၊လိုက်၍ဖမ်းကြကုန်အံ့၊ကယ်
လွှတ်သောသူမရှိဟု တိုင်ပင်ပြောဆိုကြပါ၏။-
၁၂ အိုဘုရားသခင်၊အကျွန်ုပ်နှင့်ဝေးဝေးနေတော်မ
မူပါနှင့်၊အကျွန်ုပ်၏ဘုရားသခင်၊အကျွန်ုပ်ကိုမ
၁၃ စခြင်းငှါအလျင်အမြန် ပြုတော်မူပါ။- အကျွန်ုပ်
အသက်ကိုရန်တက်ပြုသော သူတို့သည်အရှက်
ကွဲ၍ ဆုံးရှုံးခြင်းသို့ ရောက်ကြ ပါစေ သော၊ အ
ကျွန်ုပ်၌ အပြစ်ပြုခြင်း၊ အခွင့်ကိုရှာသော သူတို့
သည်ကဲ့ရဲ့ခြင်း၊ အသရေပျက်ခြင်းနှင့် စွန်းကြ
ပါစေသော။
၁၄ အကျွန်ုပ်မူကား၊ အစဉ် မျှော်လင့်၍ ကိုယ်
တော်ကို ချီးမွမ်းသမျှ ထက် သာ၍ ချီးမွမ်းပါ
၁၅ မည်။- ဖြောင့်မတ်တော်မူခြင်းနှင့် ကယ်တင်
တော်မူခြင်းကျေးဇူးကို အကျွန်ုပ်သည်နေ့တိုင်း
အစဉ်ညွှန်ကြားပါမည်၊ ကျေးဇူးတော်တို့ကို
၁၆ ရေတွက်၍ မကုန်နိုင်ပါ။- အရှင်ထာဝရဘုရား
၏ဘုန်းတန်ခိုးတော်များကို အမှီပြု၍၊ ကိုယ်
တော်၏ ဖြောင့်မတ်ခြင်း တရားကိုသာ ဖြသ ပါ
၁၇ မည်။-အိုဘုရားသခင်၊ကိုယ်တော်သည်အကျွန်ုပ်
ကိုငယ်သောအရွယ်မှစ၍သွန်သင်တော်မူပါပြီ၊
ယခု တိုင်အောင် အံ့ဩဖွယ်သော အမှုတော်တို့ကို
၁၈ အကျွန်ုပ်ပြပါပြီ။- တစ်ဖန်တုံ အိုဘုရားသခင်၊ အ
ကျွန်ုပ် အသက်ကြီး၍ ဆံပင်ဖြူသည်ကာလတိုင်
အောင်၊ ယခု လူများတို့အား ကိုယ် တော်၏ အ
စွမ်းသတ္တိကို၎င်း၊ နောက်ဖြစ်ထတုံ့သော သူအ
ပေါင်းတို့အားတန်ခိုးတော်ကို၎င်း၊ အကျွန်ုပ်မပြ
၁၉ မီတွင်၊အကျွန်ုပ်ကို စွန့်ပစ်တော်မမူပါနှင့်။-အို
ဘုရား သခင်၊ ဖြောင့် မတ် တော် မူ ခြင်း တရား
သည်အထွန်မြင့်ရာသို့မှီသည်ဖြစ်၍၊ ကိုယ်တော်
သည် ကြီးစွာသော အမှုတို့ကို ပြုတော်မူ၏၊ အို
ဘုရားသခင်၊ ကိုယ်တော်နှင့် အတူသူ ထူပါ
၂၀ သနည်း။- ကြီးမားကြမ်းတမ်းသော ဘေးများ
ကို အကျွန်ုပ်အား ပြတော်မူပြီ၊ တစ်ဖန်အသက်
ကိုချမ်းသာပေး၍၊မြေကြီးနက်ရာထဲကတစ်ဖန်
၂၀ ထမြောက်စေတော်မူမည်။- အကျွန်ုပ်ကို စည်း
စိမ် တိုးပွားစေ၍၊ တစ်ဖန် သက်သာ စေတော်မူ
၂၂ မည်၊-သို့ဖြစ်၍၊အကျွန်ုပ်၏ဘုရားသခင်၊ ကိုယ်
တော်နှင့်သစ္စာတော်ကိုတယောထိုး၍ချီးမွမ်းပါ
မည်၊ ဣသရေလအမျိုး၏ သန့်ရှင်းတော်မူသော
ဘုရား၊ စောင်းတော်၌ တီး၍ သီခြင်း ဆိုပါ
၂၃ မည်။- ရွှေ တော်၌ သီခြင်းဆို သော အခါ၊ ရွှင်

ထန်းသော နှုတ်ရှိပါလိမ့်မည်၊ ငွေးတော်မူသော
အကျွန်ုပ်၏ဝိညာဉ်သည်၎င်း ရွှင်လန်းပါလိမ့်မည်။
၂၄ အကျွန်ုပ်၏ လျှာသည်လည်း ဖြောင့်မတ်တော်မူ
ခြင်းတရားကို အစဉ် မြွက်ဆိုပါလိမ့်မည်၊ အ
ကြောင်းမူကား၊ အကျွန်ုပ်၌အပြစ်ပြုခြင်းအခွင့်
ကိုရှာသောသူတို့သည်မျက်နှာပျက်၍၊ အရှက်
ကွဲခြင်းသို့ရောက်ကြပါ၏။

၇၂

ရှောလမုန်ကိုရည်စောင်း၍စပ်ဆိုသောဆာလံ။

၁ အိုဘုရားသခင်၊ ကိုယ်တော်၏တရားဆုံးဖြတ်
ခြင်းနှင့် ဖြောင့်မတ်စွာ စီရင်ခြင်းအခွင့်ကို မင်း
သားဖြစ်သောရှင်ဘုရင်အား ပေးသနားတော်မူ
၂ ပါ။- ထိုမင်းသည်ကိုယ်တော်၏လူတို့ကို ဖြောင့်
မတ်စွာစီရင်၍၊ ကိုယ်တော်၏ ဆင်းရဲသားတို့
၃ ကိုတရား ပေးပါလိမ့်မည်။- တောင်ကြီးတောင်
ငယ်တို့သည်တရားတော်အားဖြင့်၊ ကိုယ်တော်
၄ ၏လူတို့အားချမ်းသာပေးကြပါလိမ့်မည်။- ထိုမင်း
သည်ကိုယ်တော်၏လူတို့တွင်ဆင်းရဲသားတို့ကို
တရားစီရင်လျက်၊ ငတ်မွတ်သော သူတို့၏သား
တို့မျှားကိုကယ်မ၍၊ ညှဉ်းဆဲသောသူကိုလည်း
၅ နှိပ်စက်ပါလိမ့်မည်။-နေနှင့်လတည်သမျှသော
ကာလပတ်လုံး၊ လူအစဉ်အဆက် အပေါင်းတို့
သည်ကိုယ်တော်ကိုကြောက်ရွံ့ကြပါလိမ့်မည်။
၆ ထိုမင်း၏ အထံ ရောက် ခြင်းသည် ရိတ်သော
မြက်ပင်ပေါ်မှာ ရွာသော မိုဃ်းကဲ့သို့၎င်း၊ မြေကို
စိုစေသောမိုဃ်းပေါက် များကဲ့သို့၎င်း ဖြစ်လိမ့်
၇ မည်။- ထက်ထက် တော်၌ ထသည် ပပျောက်
ခြင်းသို့ မရောက် မှီတိုင်အောင်၊ တရားသော သူ
သည် ပွင့်လန်း၍ ချမ်းသာများပြား လိမ့်မည်။-
၈ ပင်လယ် တပါးမှ တပါး တိုင်အောင်၎င်း၊ မြစ်မှ
သည် မြေစွန်း တိုင် အောင် ၎င်း အစိုးရတော် မူ
၉ လိမ့်မည်။- တောတွင်းသားတို့သည် ရှေ့တော်၌
ဦးချ၍၊ ရန်သူတို့ သည်လည်း မြေမှုန့် ကိုလျက်
၁၀ ကြ လိမ့် မည်။- တာရှုမင်း တို့ နှင့် ပင်လယ် တ
စပ်၌နေသောမင်းတို့သည်အခွန်ဘဏ်ဆက်၍၊ ရှေဘ
မင်းနှင့်သေဘမင်းတို့သည်လည်း လက်ဆောင်
၁၁ ပဏ္ဏာများကိုဆက်ကြလိမ့်မည်။- ထိုမှမက ရှင်
ဘုရင် အပေါင်း တို့ သည် ရှေ့တော်၌ ပြပ်ဝပ်၍၊
ခပ်သိမ်းသောလူမျိုးတို့သည် အမှုတော်ကိုထမ်း
၁၂ ကြ လိမ့်မည်။- အ ကြောင်း မူကား၊ ငတ် မွတ်
သောသူ အော်ဟစ်သောအခါ၊ ထိုသူကို၎င်း ကိုး
ကွယ်ရာမရှိ၍၊ ဆင်းရဲသောသူကို၎င်း ချမ်းသာ
၁၃ ပေးတော်မူလိမ့်မည်။- ဆင်းရဲသောသူနှင့် ငတ်
မွတ်သောသူကိုသနား၍၊ ငတ်မွတ်သောသူတို့၏
၁၄ အသက်ကိုကယ်တင်တော်မူလိမ့်မည်။- သူတို့အ
သက်ကိုလှည့်စားခြင်း၊ နှင့်ညှဉ်းဆဲခြင်း၏ထံ
မှရွေး နှုတ်၍၊ သူတို့ အသွေးကိုနှစ်မြော တော်မူ
၁၅ လိမ့်မည်။- အ သက် တော် တည် ၍ လူများ တို့
သည်ရှေဘရွှေကိုဆက်ခြင်း၊ ကိုယ်တော်အဘို့အ
စဉ် ပဌနာပြုခြင်း၊ နေ့တိုင်း ထောမနာ ပြုစွမ်း
၁၆ ခြင်းတို့ကို ပြုကြ လိမ့် မည်။- ပြည်တော်၌ ရှား
ပါးသောစပါးရှိ၍၊ အသီးအနှံသည် လေဗနုန်
တော ကဲ့သို့ တောင် ထိပ် ပေါ်မှာ လှုပ် ရှား လိမ့်
မည်၊ မြို့သူ မြို့သား တို့သည် လည်း၊ မြေ၏ မြက်
၁၇ ပင်ကဲ့သို့စည်ပင်ကြလိမ့်မည်။- နာမတော်သည်
အစဉ်အမြဲ တည် လိမ့် မည်၊ နေသည်တည်သ
မျှသော ကာလပတ်လုံး နာမတော် တိုးပွား လိမ့်
မည်၊ ကျေးဇူးတော် အားဖြင့် လူမျိုး အပေါင်း
တို့သည်ကောင်းကြီးမင်္ဂလာကိုခံရကြ၍၊ မင်္ဂလာ
ရှိတော်မူသည် ဟု ချီးမွမ်းကြလိမ့်မည်။
၁၈ အံ့ဩဘွယ်သောအမှုတို့ကိုတပါးတည်းသာစီရင်
တော်မူသော ထာဝရအရှင် ဘုရားသခင်၊ ဣသ
ရေလအမျိုး၏ ဘုရား သခင်သည်မင်္ဂလာရှိတော်
၁၉ မူစေသတည်း။-ဘုန်းကြီးသောနာမတော်သည်
လည်းအစဉ်အမြဲမင်္ဂလာရှိတော်မူစေသတည်း။
မြေကြီး တပြင်လုံးသည် ဘုန်းတော်နှင့် ပြည့်ပါ
စေသတည်း၊ အာမင် နှင့်အာမင်။
၂၀ ယေရှဲ ၏ သား ဒါဝိဒ် ဆုတောင်းသော ဝတ္တုရာ
စကားပြီး၏။

၇၃

၁ အကယ်စင်စစ်ဘုရားသခင်သည်နှလုံးသန့်
ရှင်းသောသူတည်းဟူသော ဣသရေလအမျိုး၌
၂ ကျေးဇူးကြီးတော်မူ၏။- ငါမူကား၊ ခြေချော်လု
၃ လျက်၊ခြေရာလွဲလုလျက်ရှိမိပြီ။- အကြောင်း မူ
ကား၊ မတရား သော သူတို့ ၏ စည်းစိမ် ကို မြင်
သောအခါ၊ မိုက်သောသူတို့ကိုပင်ငါငြူစူမိပြီ။-
၄ ထိုသူတို့သည်မသေမှီတိုင်အောင်နာကြင်ခြင်းဝေ
၅ ဒနာမရှိ၊ ခိုင်မာသောအစွမ်းသတ္တိ ရှိကြ၏။- သူ
တို့သည်သောကဒုက္ခမရှိ၊လူများကဲ့သို့အနှောင့်
၆ အရှက်ကိုမခံရကြ။-ထိုကြောင့်မာနကိုလည်ဆွဲ
တန်ဆာကဲ့သို့ ဆင်၍၊ ညှဉ်းဆဲခြင်း အဝတ်ကို
၇ လည်းဝတ်တတ်ကြ၏။-ဆူဝသောကြောင့်မျက်
နှာမောက်လျက်ရှိကြ၏၊ စိတ်နှစ်သက်လုံး ကြံစည်ခြင်း
၈ အားဖြင့်သွန်ကျူးတတ်ကြ၏။- ဆိုးသောညှဉ်း

ဆဲခြင်းကိုပင် ဖွင့်ရယ် ဖြင့် ပြောတတ်ကြ၏။
ထောင်လွှားသောစကားကိုထည့်သုံးတတ်ကြ
၉ ၏- သူတို့နှုတ်သည် ကောင်းကင်နှင့် ဆန့်ကျင်
ထတ်ဖြ၍၊ လျှာသည်ထည်း မြေကြီးကို ဖျည့်
၁၀ ထည်တတ်၏။-ထိုကြောင့် ဘုရားသခင်၏လူတို့
သည် သူတို့ထံသို့ ပြန်လွှား၍ ဖျားရွှသော ရေ
၁၁ ကိုရှိရကြ၏။-ဘုရားသခင်သည်အဘယ်သို့သိ
တော်မူမည်နည်း၊ အမြင့်ဆုံးသော ဘုရား၌
ဉာဏ်ရှိပါလိမ့်မည်လောဟု ဆိုတတ်ကြ၏။-
၁၂ ထိုမတရားသောသူတို့သည်အစဉ်ကောင်းစား
၁၃ ၍ဥစ္စာပွားများကြ၏။-အကယ်စင်စစ်ငါနှစ်လုံး
ကို ငါသန့်ရှင်းစေသော်ထည်း အကျိုးမရှိ၊ အ
ပြစ်ကင်းခြင်းနှင့် ငါထက်ကို ဆေးကြောသော်
၁၄ ထည်းအကျိုးမရှိ။-နေ့ထိုင်းနှောင့်ရှက်ခြင်းနှင့်
နံနက်ထိုင်းဆုံးမခြင်းကိုငါခံရ၏။
၁၅ ထိုသို့ သဘောကျမည်ဟု အကျွန်ုပ် ဆိုလျှင်၊
ကိုယ်တော်၏ အမျိုးသားတို့ကို ပြစ်မှားရာသို့
၁၆ ရောက်ပါလိမ့်မည်။- ထိုအမှုကို နားထည့်ရ
အောင် ဆင်ခြင်သောအခါ အတွန်ခက်သည်ဟု
၁၇ ထင်ပါ၏။- နောက်မှဘုရားသခင်၏သန့်ရှင်းရာ
ဌာနထဲသို့ဝင်၍၊ သူတို့၏အဆုံးကိုနားထည့်ရပါ
၁၈ ၏။- အကယ်စင်စစ် ကိုယ်တော်သည် သူတို့ကို
ချောသောအရပ်၌ ထားတော်မူပြီး ဖျက်ဆီးရာ
၁၉ အရပ်သို့ချတော်မူ၏။- တခဏချင်းတွင် အကျိုး
နည်းကြပါပြီ တကား၊ ထေးဥပါတ်များအား
ဖြင့် ရှင်းရှင်းပယ် ပျောက်လျက် မှိကြပါပြီတ
၂၀ ကား။- အိုထာဝရဘုရား၊ လူသည် နိုးသောအ
ခါ၌အိပ်မက်ကို မှတ်သကဲ့သို့ သူတို့ကို နှိုးတော်မူ
သောအခါ၊ သူတို့အကြံ အစည်ကို မထီမဲ့မြင်ပြု
၂၁ တော်မူမည်။- ထိုသို့ အကျွန်ုပ်သည် နှစ်လုံး နာ
၂၂ လျက်၊ကျောက်ကပ်မြှွန့်နှံ့ကိုလျက်ရှိ၍၊-မိုက်
သောသူ၊ ပညာမဲ့သောသူ ဖြစ်ပါ၏၊ ရှေ့တော်၌
၂၃ တိရိစ္ဆာန်ကဲ့သို့ ဖြစ်ပါ၏။- သို့သော်လည်း၊ အ
ကျွန်ုပ်သည် ကိုယ်တော်ထံမှာ အစဉ်ရှိ၍၊ အ
၂၄ ကျွန်ုပ်၏ လက်ျာလက်ကိုဆွဲကိုင်တော်မူ၏။- အ
ကျွန်ုပ်ကိုဉာဏ်လေး၍ပဲ့ကိုင်တော်မူမည်း၊နောက်
ထစ်ဘုန်းအသရေ၌ သိမ်းယူတော်မူမည်။-
၂၅ ကိုယ်တော်မှတပါး၊ကောင်းကင်ထုံမှာအကျွန်ုပ်
၌အဘယ်သူရှိပါသနည်း။ကိုယ်တော်ကိုအလိုရှိ
သည်နှင့်အမျှမြေကြီးပေါ်မှာအကျွန်ုပ်သည်အ
၂၆ ထူးအလိုရှိပါသနည်း။- အကျွန်ုပ်၏အသား
နှင့် နှစ်လုံးသည် ဖျက်ရပါ၏။ သို့သော် ထည်း
ဘုရားသခင်သည် အကျွန်ုပ်နှစ်လုံး၏ အစွမ်း၊
သခွတ်၊ အကျွန်ုပ်အစဉ် အမြဲခံစားရာအမွေ ဖြစ်
၂၇ တော်မူ၏။- အကယ်စင်စစ်ကိုယ်တော်နှင့် ဝေး
ဝေးနေသောသူတို့သည် ဖျက်ဆီးခြင်းသို့ ရောက်
ရကြပါ၏။ ကိုယ်တော်နှင့်ကွာ၍ မှားယွင်းသော
၂၈ သူအပေါင်းတို့ကိုပယ်ရှင်းတော်မူ၏။-အကျွန်ုပ်
မူကား၊ ဘုရားသခင်ထံတော်သို့ ချဉ်းကပ်၍အ
ကျိုးရှိပါ၏၊ အမှုတော်ရှိသမျှ တို့ကို ကြားပြော
ခြင်းအလို့ငှါ၊ အရှင်ထာဝရဘုရား၌ခိုလှုံလျက်
နေပါ၏။

၇၄

၁ အိုဘုရားသခင်၊ အကျွန်ုပ် တို့ကို အဘယ်
ကြောင့်အစဉ် စွန့်ပြစ်တော် မူသနည်း၊ ကိုယ်
တော် ထံမှာ ကျက်စားသော သိုးတို့ကို အဘယ်
၂ ကြောင့်အမျက် ထွက်တော် မူသနည်း။- ရှေးက
အပိုင် ရတော်မူ သောလူအစည်း အဝေးကို၎င်း၊
ရွေးတော်မူသော အမွေတော်အမျိုးကို၎င်း၊ ကျိန်း
ဝပ်တော်မူရာ ဇိအုန် တောင်ကို၎င်း အောက်မေ့
၃ တော်မူပါ။- သန့်ရှင်းရာ ဌာန၌ ရန်သူသည် မ
တရားသဖြင့်ပြု၍၊ အမြဲသုတ်သင်ပယ် ရှင်းရာ
၄ အရပ်သို့ကြွတော်မူပါ။- ကိုယ်တော်၏လူစည်း
ဝေးရာအရပ်၌ ရန်သူတို့သည် ဟော်ထစ်ကြပါ
၏။ထကျွထာသက်သောတော်အရာ၌ သူတို့ထမှ
၅ ထာသက်သေတို့ကိုထားကြပါပြီ။-ထိမ္မာသော
ဥသည် ထူထပ်သောတောကို ပုဆိန်နှင့်ခုတ်ထ
၆ ကဲ့သို့၊- ယခုတွင်မိတ်မှန်တော်တန်ဆာများကို
ပုဆိန်၊ သံတူနှင့်တပြိုင်နက် ခိုက်ချိုးကြပါ၏။-
၇ သန့်ရှင်းရာ ဌာန တော်ကို မီးရှို့ကြ ပါ၏၊ နာမ
တော်ကျိန်းဝပ်ရာ ထဲတော်ကို မြေ ထိုင် အောင်
၈ ရှုတ်ချကြ ပါ၏။- ဤအမျိုးသား အပေါင်း တို့ကို
အထူဖျက်ဆီးကြကုန်စို့ဟု ဆို၍၊ မြေတပြင်လုံး
တွင် ဘုရားသခင်၏ တရားဇရပ်တို့ကို မီးရှို့ကြ
၉ ပါ၏။- အကျွန်ုပ်တို့သည်ကိုယ်ထ ထူထာသက်
သေများကိုမမြင်ရပါ၊ ပရောဖက်သည် တစ်နမ
ပေါ်မရှိပါ၊ အကျွန်ုပ်တို့တွင်၊ ကာလ အပိုင်းအ
ခြားကိုသိသောသူမရှိပါ။
၁၀ အိုဘုရားသခင်၊ ရန်သူသည် အဘယ်မျှ ကာ
လပတ် ထုံးကဲ့ရဲ့ ပါလိမ့်မည်နည်း၊ ရန်ဘက်ပြု
သောသူသည် နာမတော်ကိုအစဉ် မထီမဲ့မြင်ပြု
၁၁ ရပါမည်လော။- လက်ျာလက်တော်ကို အဘယ်
ကြောင့်ရုပ်သိမ်း တော်မူသနည်း၊ ရင်ခွင်တော်
၁၂ ထဲကထုတ်၍ ဖျက်ဆီးတော်မူပါ။- အကယ်စင်

စ် ဘုရားသခင် သည် ရှေးကာလ၌စ၍၊ ကယ်
တင်တော်မူခြင်းကို မြေအလယ်၌ ပြုသောငါ့
၁၃ ၏ရှင်ဘုရင် ဖြစ်တော် မူ၏။- ကိုယ်တော် သည်
တန်ခိုးတော်အားဖြင့် ပင်လယ်ကိုခွဲတော်မူပြီ၊
ရေထဲမှာ မိကျောင်း တို့၏ ဦးခေါင်း တို့ကို ချိုး
၁၄ တော်မူပြီ။- လဝိသန်၏ဦးခေါင်းတို့ကိုချိုးဖျက်
၍တောတွင်းသားတို့ စားစရာကို အပ်ပေး တော်
၁၅ မူပြီ။-စမ်းရေနှင့်ချောင်းရေကိုပေါက်စေတော်မူ
ပြီ၊ရေမပြတ်သောမြစ်တို့ကိုလည်း ခန်းခြောက်
၁၆ စေတော်မူပြီ။- နေ့နှင့်ညဉ့်ကိုပိုင်တော်မူ၏၊နေ
မှစ၍ အလင်း အိမ်ဘို့ကို စီရင်တော်မူပြီ။-
၁၇ မြေကြီး၏ အကန့်အကွက် ရှိသမျှတို့ကိုငင်၊ နွေ
ကာလနှင့်ဆောင်းကာလကိုငင်စီရင်တော်မူပြီ၊
၁၈ ရန်သူတို့သည် ထာဝရဘုရားကိုကဲ့ရဲ့၍၊ လူ
မိုက်တို့ သည် နာမ တော် အား မထီမဲ့ မြင် ပြုကြ
၁၉ သည်ကို အောက်မေ့ တော်မူပါ။- ကိုယ်တော်၏
ချိုးငှက် အသက်ကို သားရဲ၌ အပ်တော် မမူ ပါ
နှင့်၊ ကိုယ်တော်၏ဆင်းရဲသားတို့အစည်းအဝေး
၂၀ ကိုအစဉ် မေ့လျော့တော် မမူပါနှင့်။- ပဋိညာဉ်
တော်ကို ထောက်တော်မူပါ၊ အကြောင်းမူကား၊
မြေကြီးပေါ်မှာ မှောင်မိုက်သော အရပ်တို့သည်
လုယူညှဉ်းဆဲခြင်း နေရာသက်သက် ဖြစ်ကြပါ
၂၁ ၏။- နှိပ်စက်ခြင်းကို ခံရ သော သူတို့သည် မိတ်
ပျက်၍ မသွားကြ ပါစေ နှင့်၊ ဆင်းရဲ တော် ငွတ်
သောသူတို့သည် နာမတော်ကိုချီးမွမ်းကြ ပါစေ
၂၂ သော။- အိုဘုရားသခင်၊ထတော်မူပါ၊ကိုယ်အ
မှုကိုစီရင်ဆုံးဖြတ်တော်မူပါ၊မိုက်သောသူသည်
ကိုယ် တော်အား အစဉ် ကဲ့ရဲ့ သည် ကို အောက်
၂၃ မေ့တော်မူပါ။- ကိုယ်တော်၏ ရန်သူတို့အသံကို
မေ့လျော့တော်မမူပါနှင့်၊ ကိုယ်တော်ကိုပုန်ကန်
သောသူတို့၏ ရုန်းရင်းခတ်ခြင်း အသံသည် အ
စဉ်မပြတ်တိုးတက်လျက်ရှိပါ၏။

၇၅

၁ အိုဘုရားသခင်၊အကျွန်ုပ်တို့သည်ကိုယ်တော်
ကိုချီးမွမ်းကြပါ၏၊ နာမတော်နီးကြောင်းကိုထင်
ရှားသော အမှု တော် တို့သည် သက်သေခံကြ
သည်ဖြစ်၍၊ကိုယ်တော်ကို ချီး မွမ်းကြပါ၏။
၂ ချိန်းချက် သော အချိန် ကာလ နှင့် ငါ တွေ့ကြုံ
၃ သောအခါ ဖြောင့်မတ်စွာတရားစီရင်မည်။-မြေ
ကြီးနှင့်မြေကြီးသားအပေါင်းတို့သည်ထွေ့ဝ်ရှား
ခြင်းရှိသည် ဖြစ်၍၊ မြေကြီးတည် သော တိုင်တို့
၄ ကို ငါထောက်ခံရ၏။- မိုက်သော အကျင့် ကိုမ
ကျင့်ကြနှင့်ဟု၊ မိုက်သော သူတို့အားငှင်၊ ဦးချို
၅ ကို မချောက်ကြနှင့်။- သင်တို့၏ ဦးချိုကို မချီး
မြောက်ကြ နှင့်၊ လည်ပင်း မိုင်မာလျက် မပြော
ကြနှင့်ဟု၊ မတရားသောသူတို့ အားငှင် ငါပြော
၆ သော်၏။-အရှေ့၊အနောက်၊တောင်အရပ်တို့တွင်
၇ အထယ်အရပ်မှုကျော်ရှားမပြုနိုင်။-ဘုရားသခင်
သည်စီရင်ပိုင်တော်မူ၏၊တယောက်ကိုနှိမ့်ချ၍၊
၈ တယောက်ကို ချီး မြှောက် တော် မူ၏။- ထာဝရ
ဘုရား၏ လက်တော်၌ ခွက်ရှိ၏၊ နီသော စပျစ်
ရည်ပါ၏၊ ဆေးမျိုးနှင့်ရောလျက်ရှိ၏၊ ထိုစပျစ်
ရည် ကို သွန်း တော် မူ ၏၊ အနည် အစက် ကို
လည်း မတရားသော မြေသား အပေါင်းတို့သည်
၉ ညှစ်၍သောက်ရကြ၏။-ငါမူကား အစဉ်မပြတ်
ချီး မွမ်း၍၊ ယာကုပ် အမျိုး၏ ဘုရား သခင် ကို
၁၀ ထောမနာသီခြင်းဆိုပါမည်။- မတရားသောသူ
တို့၏ ဦးချိုအပေါင်းကိုငါချိုးမည်၊ တရားသော
သူ၏ ဦးချိုတို့မူကား၊ ချီးမြှောက်ခြင်းသို့ရောက်
ရကြလိမ့်မည်။

၇၆

၁ ယုဒပြည်မှာဘုရားသခင်ကိုသိကြ၏၊ဣသရေ
၂ လ ထိုင်းမှာနာမတော်သည်ကြီးမြတ်သော၏။-သေ
လင်မြို့မှာတဲ တော်ရှိ၏၊ ဇိအုန် တောင် မှာ
၃ ကျိန်းဝပ်လျက် နေတော်မူ၏။- ထိုအရပ်၌လေး
မြားပိုင်းသွား၊ ထားလွှားနက်၊ စစ်အင်္ဂါတို့ကို
၄ ချိုးဖျက်တော်မူပြီ။- သင်သည်သားရဲ နေသော
၅ တောင်တို့ထက် ဘုန်းသာ၍ ကြီးမြတ်ပေ၏။- ရဲ
ရင့်သောသူတို့သည်လုယူခြင်းကိုခံရ၍အိပ်ပျော်
ကြပြီ၊ အားကြီးသောသူတစုံ တယောက်မျှမိမိ
၆ လက် ကို မ တွေ့ ရ။- ယာ ကုပ် အ မျိုး ၏ ဘုရား
သခင်၊ ကိုယ်တော်ဆုံးမတော် မူသော အားဖြင့်၊
ရထားစီးသော သူနှင့် မြင်းစီးသော သူတို့သည်
ကြီးစွာသော အိပ်ခြင်းဖြင့် အိပ်ပျော်ကြပါ၏။-
၇ ကိုယ်တော် တပါးတည်းသာလျှင် ကြောက်ရွံ့
ဖွယ်ဖြစ်တော်မူ၏၊ အမျက်ထွက် တော် မူသော
အခါ၊ ရှေ့တော်၌အဘယ်သူ ရပ်နေနိုင် ပါမည်
၈ နည်း။- ဘုရားသခင် သည် နှိမ့် ချလျက် ရှိသော
၉ မြေကြီးသားအပေါင်းတို့ကိုကယ်တင်၍၊တရား
ဆုံးဖြတ်ခြင်းငှါ ထ တော် မူသော အခါ၊ တရား
ဆုံးဖြတ် သံကို ကောင်းကင်ထဲ ကကြွတ်တော်မူ
သဖြင့်၊ မြေကြီးသည်ကြောက်၍ တိတ်ဆိတ်စွာ
၁၀ နေပါ၏။- အကယ် စင်စစ် လူ ထို့၏ ဒေါသ သည်
ကိုယ်တော်ကိုချီးမွမ်းလိမ့်မည်၊ ကြွင်းသောဒေါ

၁၁ သင်ကိုထည်း ခါးပန်း၍ညည်းတော်မူမည်။- သစ္စာ
ဂတိပြုကြလော့။ သင်တို့၏ဘုရားသခင် ထာဝရ
ဘုရားအား သစ္စာဝတ်ကိုလည်း ဖြေကြလော့။
ကိုယ်တော်၏ ပတ်လည်၌ နေသောသူ အပေါင်း
တို့သည် ကြောက်ရွံ့ ရိုသေဖွယ်သော ဘုရားထံ
၁၂ တော်သို့ လက်ဆောင်ကို ဆောင်ခဲ့ကြစေ။- ထို
ဘုရားသည် မင်းသားတို့၏ စိတ်ကိုနှိမ့်ချတော်မူ
၏။ လောကီရှင်ဘုရင်တို့၌ ကြောက်ရွံ့ဖွယ်ဖြစ်
တော်မူ၏။

၇၇

၁ ငါသည် ဘုရား သခင် ထံသို့ အသံကို လွှင့် ၍
အော်ဟစ်၏။ ဘုရားသခင်ထံသို့ အသံကိုလွှင့်၍
ဘုရားသခင်သည် ငါ့စကားကို နားထောင်တော်
၂ မူလိမ့်မည်။- ဒုက္ခ ရောက် သည့် ကာလ ၌ ငါ
၃ သည် ထာဝရဘုရားကို ရှာရ၏။ ညည့်အချိန်၌
ပင် လက်ကို ဆန့်လျက် နေရ၏။ ငါ့ဝိညာဉ် သည်
သက်သာခြင်းကို ငြင်းပယ်၏။- ဘုရား သခင်ကို
အောက်မေ့၍စိတ်ပူပန်ခြင်းရှိ၏။ ဆင်ခြင်၍စိတ်
၄ ပျက်ခြင်း သို့ ရောက် တတ် ၏။- မျက်စိ မှိတ်၍ မ
ပျော်နိုင်၊ လှုပ်ရှားခြင်း ရှိသော ကြောင့် နှုတ်မ
၅ မြွက်နိုင်။- လွန် လေ ပြီးသော နေ့ရက် ကို ၎င်း၊
၆ ရှေးကာလကို၎င်း အောက်မေ့၏။- ညည့်အခါ၌
လည်း ငါသီဉ် ကိုယ်သီခြင်းကိုဆင်ခြင်၍၊ ကိုယ်
စိတ်နှလုံးနှင့်ဆွေးနွေးသဖြင့်၊ ငါ့ဝိညာဉ်သည်
၇ စစ်ဆေးခြင်းကို ပြု၏။- ထာဝရဘုရား သည် အ
စဉ် စွန့် ပြစ် တော် မူ မည် လော။ နောက် တဖန်
ကျေးဇူးအလျှင်းမပြုဘဲ နေတော် မူမည်လော။-
၈ ကရုဏာ တော်သည် အစဉ်ကုန်ပြီလော။ ဂတိ
တော် လည်း ကာလ အစဉ် အဆက် ပျက် လိမ့်
၉ မည်လော။-ဘုရားသခင်သည်သနားခြင်းငှါမေ့
လျော့တော် မူသလော။ အမျက် ထွက် သဖြင့် စုံ
မက်ခြင်း ကရုဏာ တော်ကို ချုပ်တည်း တော်မူ
သလော။

၁၀ ထိုသို့ဆိုသော်ငါသည်ကိုယ်မိုက်ကြောင်းကို
ဝန်ခံရ၏။ ဤအမှုကား၊ အမြင့်ဆုံးသောဘုရား၏
လက်ျာ လက် တော် နှင့် ပြု ပြင် တော် မူ ခြင်း ပေ
၁၁ တည်း။-ထာဝရဘုရား၏အမှုတော်တို့ကိုအောင်း
မေ့ပါမည်။ ရှေးကာလ၌ကိုယ်တော်ပြုဘူးသော
၁၂ အံ့ဖွယ်တို့ကိုအောင်းမေ့ပါမည်။-ပြုတော်
မူသမျှတို့ကိုဆင်ခြင်၍၊ စီရင်တော်မူသောအရာ
၁၃ တို့ကို မြွက်ဆိုပါမည်။- အိုဘုရားသခင်၊ ကိုယ်
တော်၏ လမ်းသည် သန့်ရှင်းခြင်းနှင့်ရှည်ပါ၏။
ဘုရားသခင်ကဲ့သို့အဘယ်မဉ်သောဘုရားသည်
၁၄ ကြီး မြတ် သနည်း။- ကိုယ်တော်သည် အံ့ဖွယ်
သော အမှုတို့ကို ပြုတတ်သောဘုရားဖြစ်တော်မူ
၏။ လူမျိုးတို့တွင် တန်ခိုးတော်ကိုပြတော်မူပြီ။-
၁၅ ကိုယ်တော်၏လူတဉ်းဟူသောယာကုပ်နှင့်ယောသ
သပ် ၏ အမျိုးကို လက်ရုံး တော် နှင့် ကယ် နှုတ်
၁၆ တော်မူပြီ။- အိုဘုရားသခင်၊ ရေတို့သည် ကိုယ်
တော်ကိုမြင်ကြပါ၏။ ရေတို့သည်ကိုယ်တော်ကို
မြင်၍ကြောက်ရွံ့ကြပါ၏။ ရေနက်နဲရာအရပ်တို့
၁၇ လဉ်းလှုပ်ရှားကြပါ၏။-မိုဃ်းတိမ်တို့သည်ရေ
ကိုသွန်းလောင်း၍၊ မိုဃ်းကောင်းကင်တို့ထဉ်း
အသံဗထံပြုကြပါ၏။ကိုယ်တော်၏မြှားတို့သည်
၁၈ အရပ်ရပ် သို့ ရောက် ကြ ပါ၏။- ကိုယ် တော် ၏
မိုဃ်းကြိုးသံသည်လေဘွေ၌ပါ၍၊ လျှပ်စစ်ပြက်
သဖြင့်၊ လောကကိုထင်းစေပါ၏။ မြေကြီးသည်
၁၉ ထည်းတုန်လှုပ်ပါ၏။- ကိုယ်တော်သည် သမုဒ္ဒ
ရာ၌ကြွတော်မူ၍၊ လမ်းခရီး တော်သည် ကျယ်
ဝန်းသောရေတွင်ရှိသဖြင့်၊ ခြေတော်ရာတို့သည်
၂၀ မထင်ရှားကြပါ။- မောရှေနှင့် အာရုန်တို့လက်
ဖြင့် ကိုယ်တော် ၏ လူများ တို့ကို သိုးစုကဲ့သို့ ပို့
ဆောင်တော်မူ၏။

၇၈

၁ ငါ၏ လူများတို့၊ ငါ့တရားကို နားကြလော့။ ငါ
၂ မြွက် သော စကားကို နား ထောင် ကြလော့။- ပုံ
စကားကိုငါမြွက်ဆို၍၊ ရှေးကာလ၏နက်နဲသော
၃ အရာများကို ဖော်ပြပေအံ့။- ထိုးထေး တို့သည်
ပြော၍ငါတို့သည်ကြားသိရသော ထိုအရာများ
၄ ကို- သားမြေးတို့မှမဝှက်မထား။ထာဝရဘုရား
၏ဂုဏ်ကျေးဇူးတော်နှင့်တန်ခိုးတော်ကို၎င်း၊ ပြု
တော်မူသော အံ့ဖြေဖွယ် အမှုတို့ကို၎င်း၊ ဖြစ်
လတံ့သောသူတို့အားဖော်ပြကြမည်။
၅ အကြောင်းမူကား၊ ယာကုပ်အမျိုး၌သက်သေ
တရားကို စီရင်၍၊ ဣသရေလ အမျိုး၌ ပညတ်
၆ တရား ကို ထား တော် မူ၏။- သတော မ ဖြောင့်၊
၇ ဘုရား သခင် ၌ စိတ် ဝိညာဉ် အမြဲ မဆည်း ကပ်
၈ သောအမျိုး၊ ငြင်းဆန်၍ပုန်ကန်တတ်သောအ
မျိုးတည်း ဟူသော ဘိုးဘေးတို့ကဲ့သို့ သားမြေး
တို့သည်မဖြစ်၊ ဘုရားသခင်၏အမှုတော်တို့ကိုမ
မေ့၊ ဘုရားသခင်ကို ယုံကြည်ကိုးစား၍၊ ပညတ်
တော်တို့ကိုစောင့်စေခြင်းငှါ၊ ထိုတရားတို့ကိုဘိုး
ဘေး တို့သည် သားတို့ အား ပြသ ၍၊ ဖြစ်လတံ့
သောအမျိုးတည်းဟူသော၊ ဖွားမြင်လတံ့သော

သားချို့သည်ထိန့်နားထည်၍၊ နောက်တဖန်ခြေး
မြဲ ထို အား ပြုသ ကြမည့် အကြောင်း၊၊ ပညတ်
ထားတော်မူပြီ။
၉ ဧဖရိမ် အမျိုးသား တို့သည် လေးထက် နက်
ကို စွဲ ကိုင် သော် လည်း၊၊ စစ် ထိုးသော အခါ
၁၀ နောက် သို့ ဖြည့် ကြ ပါ သည် တကား။- ဘုရား
သခင်၏ သစ္စာ တော် ကို မစောင့်၊ တရား တော်
၁၁ လမ်း၌ သွား ခြင်းငှါ အလိုမရှိကြ။- အမှု တော်
တို့ကို၎င်း၊ ပြတော် မူသော အံ့သြ ဖွယ် တို့ကို
၁၂ ၎င်းမေ့လျော့ကြ၏။- အဲဂုတ္တုပြည်၊ ဇောနအရပ်
တွင်သူတို့အဘများ၏ မျက်မှောက်၌၊ အံ့ဖွယ်သော
၁၃ အမှုတို့ကို ပြုတော်မူ၏။- ပင်လယ် ကိုခွဲ၍ သူတို့
ကိုရှောက်သွား စေတော်မူ၏၊ ရေများကို စုပုံ၍
၁၄ ထားတော်မူ၏။- နေ့အချိန်၌ကား၊ မိုဃ်းတိမ်
ဖြင့်၎င်း၊ ညဥ့်အချိန်၌ကား၊ တညဥ့်လုံး မီးအ
၁၅ လင်းဖြင့်၎င်း သူတို့ကိုလမ်းပြတော်မူ၏။- တော၌
ကျောက်တို့ကိုခွဲ၍၊ ပင်လယ်ရေကဲ့သို့များ
စွာသော ရေ ကို သူတို့ အား တိုက် တော် မူ၏။-
၁၆ ကျောက်ထဲကစီးသောရေကိုထွက်စေ၍၊ မြစ်ရေ
ကဲ့သို့ရေများကိုစီးစေတော်မူ၏။
၁၇ ထို သူတို့မူကား၊ အမြင့် ဆုံး သော ဘုရား ကို
တော၌ပုန်ကန်သော အားဖြင့်ထိုး၍ ပြစ်မှားကြ
၁၈ ၏။- မိမိတို့အလိုအလျောက်အစာကိုတောင်း၍၊
စိတ်နှလုံးထဲမှာဘုရားသခင်ကို စုံစမ်းကြ၏။-
၁၉ ဘုရားသခင်သည် တော၌ စားပွဲကို ပြင်ဆင် နိုင်
၂၀ သလော။- ကြည့်ကြ ကျောက် ကို ရိုက်
တော်မူသဖြင့်၊ ရေထွက်၍ မြစ်ရေကဲ့သို့ စီးလေ
၏။ မုန့် ကိုလည်း ပေး နိုင်သလော၊ မိမိလူတို့အဖို့
အမဲသားကိုပြင်ဆင်နိုင်သလောဟုဘုရားသခင်
၂၁ ကိုဆန့် ကျင်ဘက် ပြု လျက် ပြောဆိုကြ၏။- ထို
စကားကို ထာဝရဘုရားသည် ကြား၍ အမျက်
ထွက်တော်မူ၏။ ယာကုပ်အမျိုး၌ မီးထောင်၍၊
၂၂-၂၅ ဣသရေလအမျိုး၌ ဒေါသမီး တက်လေ၏။-
အကြောင်းမူကား၊ အထက်မိုဃ်းတိမ်တို့ကိုမှာ
ထားလျက်၊ ကောင်းကင် တံခါးတို့ကိုဖွင့်၍၊ သူ
တို့ စားစရာ အို့ မန္န ကို မိုဃ်း ရွာ စေသဖြင့်၊
ကောင်းကင် ဆန်စပါးကို ပေးတော် မူသည်ဖြစ်
၍၊ ထိုသူအပေါင်းတို့သည် ကြီးမြတ်သော သူတို့
၏အစာကို သုံးဆောင်၍၊ ဝပြောစွာ စားကြမည်
အကြောင်း ပြုတော် မူသော်လည်း၊၊ သူတို့သည်
ဘုရားသခင်ကို မယုံကြည်၊ ကယ်တင် တော်မူ
၂၆ ခြင်း ကျေးဇူးကို မကိုး စားဘဲ နေကြ၏။- မိုဃ်း

ကောင်းကင်၌ အရှေ့ လေကို ထစေ၍၊ အားကြီး
၂၇ သော တောင် လေကို ဆောင် စေသဖြင့်- သူတို့အ
ပေါ်သို့ အမဲ သားကို မြေမှုန့် နှင့် အမျှ၊ တောင်တတ်
သောငှက်တို့ကို သမုဒ္ဒရာ သဲလုံးနှင့်အမျှ မိုဃ်း
၂၈ ရွာ စေလျက်- သူတို့တပ် ထဲ၌၊ နေရာ အရပ် ပတ်
၂၉ လည်၌ကျစေတော်မူ၏။-ထိုသို့သူတို့အလိုရှိသည်
အတိုင်း ပေးတော်မူသဖြင့်၊ သူတို့သည် ဝပြော
၃၀ စွာစားရကြ၏။- သူတို့တပ်မက်သော အစာကိုမ
၃၁ ရောင့်ရဲမှီ စားကြ စဉ် တွင်- ဘုရား သခင်၏ အ
မျက်တော် သည် သက် ရောက် သဖြင့်၊ ကျန်းမာ
သောသူတို့ကို ကွပ်မျက်၍၊ ဣသရေလ လူပျို တို့
ကိုဖြည်းချတော်မူ၏။
၃၂ ထိုအမှုအလုံးစုံတို့နှင့်ဣသရေလလူတို့သည်
တွေ့ကြုံ ရသော် လည်း၊၊ အံ့ဖွယ်သော အမှုတော်
တို့ကြောင့် ယုံကြည် ခြင်းမရှိ၊ ပြစ်မှား လျက် နေ
၃၃ ကြသေး၏။- ထိုကြောင့်သူတို့နေ့ရက် ကာလကို
အချည်း နှီး လွန် စေ၍၊ သူတို့ နှစ်များကို ဘေး
၃၄ ဥပါတ်တွင် မြှုပ် တော် မူ၏။- သူတို့ကို ကွပ်မျက်
တော်မူသောအခါ ကိုယ်တော်ကိုရှာကြ၏၊ ပြန်
၃၅ လာ၍ ကိုယ် တော်ကို လိုက် ရှာကြ ၏။- ဘုရား
သခင် သည် သူတို့၏ ကျောက်၊ အမြင့် ဆုံး သော
ဘုရားသည် သူတို့ကိုကယ်တင်သောအရှင် ဖြစ်
၃၆ တော်မူသည်ကိုထိုအခါသတိရကြ၏။-သို့သော်
လည်း၊၊ကိုယ်တော်ကို နှုတ်ဖြင့်ချော့မော့၍၊လျှာ
ဖြင့်လည်း မုသာ စကားကို လျှောက် ဆိုကြ၏။-
၃၇ သူတို့စိတ်သဘောမူကား၊ ရှေ့တော်၌မဖြောင့်၊
၃၈ သစ္စာတော်ကိုမစောင့်ဘဲနေကြ၏။- ကိုယ်တော်
မူကား၊ ကရုဏာစိတ်ရှိ၍ သူတို့ကို မဖျက်ဆီးဘဲ
အပြစ် လွှတ် တော်မူ၏။ ကြိမ် ဖန် များ စွာ စိတ်
တော်ပြေ၍၊ အမျက် တော် ကို နှိုး ဆော် တော်မ
၃၉ မူ။- သူတို့သည် အသား၊ ဖြစ်ကြောင်းကို၎င်း၊ ပ
တွေ့၍ နောက် တဖန် မလာ တတ် သော ဝိညာဉ်
ဖြစ်ကြောင်းကို၎င်း အောက်မေ့တော်မူ၏။
၄၀ သူတို့သည် ကိုယ်တော်ကိုတော၌ ပုန်ကန်၍၊
လူဆိတ် ညံ့ရာ အရပ်၌ စိတ်တော် နာဖွယ်သော
အကြောင်းကို ကြိမ်ဖန်များစွာပြုကြပါသည်တ
၄၁ ကား။- ဘုရားသခင်ကိုအဖန်ဖန်စုံစမ်း၍၊ ဣသ
ရေလအမျိုး၌ သန့်ရှင်းတော် မူသော ဘုရားကို
၄၂ ဆန့်ကျင်ဘက်ပြုကြပါသည်တကား။- တန်ခိုး
တော်ကို၎င်း၊ ရန်ဘက်ထဲက ကယ်လွှတ်တော်မူသော
၄၃ နေ့ရက်ကာလကို၎င်း မအောက်မေ့ကြ။- အဲဂုတ္တု
ပြည်၌ လက္ခဏာသက်သေတော်တို့ကို၎င်း၊ ဇောန

- အရပ်၌ ထုံ့ဖွယ်သော အမှုတို့ကိုရင် ပြုတော်မူ
၄၄ ၏။- ထိုမြစ်သားတို့သည် ရေမသောက်ရမည်
အကြောင်း၊ သူတို့မြစ်ရေ၊ စမ်းရေများကိုသွေး
၄၅ ဖြစ်စေတော်မူ၏။-သူတို့ကိုကိုက်စားတတ်သော
ယင်ရဲတို့ကိုရင်၊ ဖျက်ဆီးတတ်သော ဖားတို့ကို
၄၆ ရင်စေလွှတ်တော်မူ၏။- သူတို့၏မြေ အသီးအနှံ
ကိုခါသီလကျိုင်းတို့အားရင်၊သူတို့လုပ်၍ရသော
ဥစ္စာကိုအရာအကျိုင်းတို့အားရင်ပေးတော်မူ၏။-
၄၇ သူတို့စပျစ်နွယ်ပင်များကိုမိုးသီးဖြင့်ရင်၊ သူ
တို့သဖန်းပင်များကိုနှင်းခဲဖြင့်ရင်ဖျက်ဆီးတော်
မူ၏။- သူတို့၏သိုးနွားများကိုမိုးသီး၌ရင်၊ ဖြိုး
စုသော တိရစ္ဆာန်များကို မိုး၌ရင် အပ်တော်မူ
၄၈ ၏။- အမျက်တော် အရှိန် အားဖြင့် သူတို့၌ ဆိုး
သောတမန်တို့ကိုစေလွှတ်၍လွန်းမိုးခြင်း၊ဒါဏ်
ခတ်ခြင်း၊နှောင့်ရှက်ခြင်းအမှုကို ဖြစ်စေတော်မူ
၄၉ ၏။-အမျက်တော်ဘို့လမ်းကိုပြုင်ဆင်တော်မူ၏၊
သူတို့အသက်ကိုမနှမ်းမြော၊ သေစေခြင်းငှါကာ
၅၀ လနာသို့အပ်နှံသဖြင့်- အဲဂုတ္တုပြည်၌သားဦး
အပေါင်းတို့ကိုရင်၊ ဟာမသားတို့နေရာအရပ်၌
အထွဋ်အမြတ်များကိုရင်ဒါဏ်ခတ်တော်မူ၏။-
၅၁ မိမိလူများကိုကား၊သိုးကဲ့သို့ထွက်စေ၍၊တော၌
၅၂ သူတို့ကိုသိုးစုကဲ့သို့ဆောင်တော်မူ၏။-ဘေးနှင့်
ကင်းလွတ်အောင် ဆောင်တော်မူသဖြင့်၊ သူတို့
သည်မကြောက်ရကြ၊ရန်သူတို့ကိုကားပင်လယ်
၅၃ ရေသည်လွှမ်းလေ၏။-သန့်ရှင်းသောပြည်တော်
စွန်းတိုင်အောင်ရင်၊လက်ျာလက်တော်အားဖြင့်
အပိုင်ရတော်မူသောဤတောင်သို့ရင်၊ သူတို့ကို
၅၄ ပို့ဆောင်တော်မူ၏။- သူတို့ရှေ့မှာလည်း၊တပါး
အမျိုးသားတို့ကို နှင်ထုတ်ပြီးလျှင်၊ ဣသရေလ
အမျိုးအနွယ် အသီးအသီး တို့သည် အမွေခံရ
သော မြေကိုတာထိုး၍ ပိုင်းခြားလျက် နေရာချ
တော်မူ၏။
၅၅ သို့သော်လည်း၊ သူတို့သည် အမြင့်ဆုံးသော
ဘုရားကို စုံစမ်း၍ ပုန်ကန်ကြ၏၊ သက်သေခံ
၅၆ တော်မူချက်များကိုမစောင့်ဘဲ- ဘိုးဘေးများကဲ့
သို့ဖောက်ပြန်၍သစ္စာကိုဖျက်ကြ၏၊ လိမ်တတ်
၅၇ သောလေကဲ့သို့ ထမ်းလွဲကြ၏။- သူတို့သည်မြင့်
သော အရပ်များအားဖြင့်၊ အမျက်တော်ကို နိုး
ဆော်၍၊ ရုပ်တုများ အားဖြင့် လည်း မိတ်တော်
၅၈ ကို ဖြိုပ်ခြယ် နှောင့်ရှက်ကြ၏။- ဘုရားသခင်
သည် ကြားသိတော်မူလျှင်၊ အမျက်တော် ထွက်
၍၊ ဣသရေလအမျိုးသားတို့ကိုအလွန်စွန့်ပစ်သ
၅၉ ဖြင့်-ရှိလောသဲတော်တည်းဟူသော၊ လူတို့တွင်
နေရာ ချတော် မူသော အရပ်ကို စွန့်တော် မူ၏။-
၆၀ တန်ခိုးတော်ကို သိမ်းသွားစေခြင်းငှါရင်၊ ဘုန်း
တော်ကိုရန်သူတို့ လက်သို့ ရောက်စေခြင်းငှါရင်
၆၁ မီရင်တော်မူ၏။- မိမိလူတို့ကိုလည်းထားဘေး၌
အပ်၍၊အမွေတော်ကိုအမျက်ထွက်တော်မူ၏။-
၆၂ လူပျိုတို့သည် မီးလောင်ခြင်းကိုခံရသော်လည်း၊
၆၃ အပျိုတို့သည်မငိုကြွေးရကြ။- ယဇ်ပုရောဟိတ်
တို့သည်ထားဘေးဖြင့်ဆုံးသော်လည်း၊ မုဆိုးမ
တို့သည်မြည်တမ်းခြင်းကိုမပြုရကြ။
၆၄ ထိုအခါဘုရားရှင်သည်အိပ်ပျော်ပြီးသောသူ
ကဲ့သို့ရင်၊ စပျစ်ရည်ကြောင့် ကြွေးမြည်ပြီးသော သူရဲ
၆၅ ကဲ့သို့ရင်နိုးတော်မူ၏။-ရန်သူတို့ကိုဒါဏ်ခတ်၍
လှန် သဖြင့်၊ အစဉ် အမြဲ အရှက် ကွဲ စေတော်မူ
၆၆ ၏။- သို့ရာတွင်၊ ယောသပ်၏ ထဲတော်ကို ငြင်း
၆၇ ပယ်၍ ဧဖရိမ်အမျိုးကို ရွေးတော်မမူ။- ယုဒအ
မျိုးကိုရင်၊ ချစ်တော်မူသောဇိအုန်တောင်ကိုရင်
၆၈ ရွေးတော်မူ၏။-သန့်ရှင်းရာဌာနတော်ကိုအထွဋ်
ကဲ့သို့ တည်ဆောက်၍၊ မြေကြီးကဲ့သို့ အစဉ်မြဲ
၆၉ စေတော်မူ၏။-ကျွန်တော်မျိုးဒါဝိဒ်ကိုသိုးခြံများ
၇၀ ထဲက ရွေးယူတော်မူ၏။- သားငယ်ရှိသောသိုးမ
တို့ကို ထိန်းခြင်းအမှုမှ နုတ်၍၊ မိမိလူတည်းဟူ
သော ယာကုပ် အမျိုး သား၊ အမွေ တော်တည်း
ဟူသောဣသရေလ လူတို့ကို ကျွေးမွေး စေခြင်း
၇၁ ငှါ ခန့်ထားတော်မူ၏။- ထိုသူသည်ဖြောင့်သော
သဘောရှိသည်အတိုင်းကျွေးမွေး၍၊ထိုစွာသော
လက်နှင့်ပို့ဆောင်လေ၏။

## ၇၉

၁ ဘိုဘုရားသခင်၊တပါးအမျိုးသားတို့သည်အ
မွေတော်ထဲသို့ဝင်ပြီးလျှင်၊ သန့်ရှင်းသောဗိမ်
မာန်တော်ကို ညစ်ညူးစေ၍၊ ယေရုရှလင်မြို့ကိုဖြို
၂ ဖျက်ကြပါပြီ။-ကိုယ်တော်၏ကျွန်အသေကောင်
တို့ကိုမိုးကောင်းကင်ငှက်တို့အားရင်၊ကိုယ်
တော်၏ သန့်ရှင်းသူတို့အသားကို တောသားရဲ
၃ တို့အားရင် ကျွေးကြပါပြီ။- သူတို့ အသွေးကို
လည်းရေကဲ့သို့ ယေရုရှလင်မြို့ပတ်ထည်၌ သွန်
၄ ကြ၍၊ သင်းဂြိုဟ်သော သူလည်း မရှိပါ။- အ
ကျွန်ုပ်တို့ သည် အိမ်နီး ချင်း များ ကဲ့ရဲ့ရာ၊ ပတ်
ဝန်းကျင်၌ နေသော သူ များ ပြက်ရယ် ပြု၍ အ
ရှက်ခွဲရာ ဖြစ်ကြပါ၏။
၅ ဘိုထာဝရဘုရား၊ အမျက်တော်သည်အလျှင်း
မပြိမ်းဘဲ အထက် မျှ ကာလ ပတ် ထုံး ထွက် ပါ

မည်နည်း။ အဘယ်မျှကာလပတ်လုံး မိတ်တော်
၆ သည်မပြေ၊ မီးကဲ့သို့လောင်ပါမည်နည်း။-ကိုယ်
တော်ကိုမသိသော တပါးအမျိုးသားတို့ အပေါ်
သို့၎င်း၊ နာမတော်ကို ပဌနာမပြုသောတိုင်းနိုင်ငံ
သားတို့ အပေါ်သို့၎င်း၊ အမျက်တော်ကို သွန်း
၇ လောင်းတော်မူပါ။- အကြောင်းမူကား၊ သူတို့
သည်ယာကုပ်အမျိုးကိုကိုက်စား၍၊ သူ၏နေရာ
၈ ကိုထည်း သုတ်သင် ပယ်ရှင်းကြပါပြီ။- ရှေးက
ဖြစ်မှားမိသောအပြစ်များကို အကျွန်ုပ်တို့၌မှတ်
တော်မမူပါနှင့်။ အကျွန်ုပ်တို့သည် အလွန်နှိမ့်ချ
လျက်ရှိပါသည်ဖြစ်၍၊ ကရုဏာတော်သည်အ
၉ လျင်အမြန် ကူမပါစေသော။- ကယ်တင်တော်မူ
သောဘုရား၊ နာမတော်၏ ဂုဏ်ကိုထောက်၍အ
ကျွန်ုပ်တို့ကို မစတော်မူပါ။ နာမတော် အတွက်
ကြောင့်၊ အကျွန်ုပ်တို့ကို ချွတ်ယူ၍အပြစ်များကို
၁၀ ဖြေရှင်းတော်မူပါ။- သူတို့၏ ဘုရားသခင်သည်
အဘယ်မှာရှိသနည်းဟု၊ တပါးအမျိုးသားတို့
သည် အဘယ်ကြောင့်ဆိုရကြပါမည်နည်း။ သွန်
ပြီးသော ကျွန်တော်မျိုး၏ အသွေး တက်မှာ
တရားစီရင်တော်မူသောအကြောင်းသည်တပါး
အမျိုး သားတို့တွင်၊ အကျွန်ုပ်တို့မျက်မှောက်၌
၁၁ ထင်ရှား ပါစေ သော။- အချုပ် ခံရသော သူ၏
ညည်းတွားသံကို နားထောင်တော်မူပါ။ သေရ
သောသူတို့ကို လက်ရုံးတော် တန်ခိုး ကြီးသည်
၁၂ နှင့်အညီ ချမ်းသာ ပေးတော်မူပါ။- အကျွန်ုပ်တို့
အိမ်နီးချင်းတို့သည် ကိုယ်တော်အား ကဲ့ရဲ့ခြင်း
အပြစ်ကိုသူတို့ရင်ခွင်ထဲသို့ခုနစ်ဆတိုင်အောင်
၁၃ ဆပ် ပေး တော် မူ ပါ ဘုရား။- သို့ဖြစ်၍၊ ကိုယ်
တော်ထံ၌ ကျက်စားသောသိုးစုတည်းဟူသော
ကိုယ် တော်၏လူ အကျွန်ုပ် တို့သည် ကိုယ်တော်
ကိုအစဉ်မပြတ်ချီးမွမ်း၍၊ ဂုဏ်ကျေးဇူးတော်
ကို အစဉ် အဆက် ဖြစ် ထတ့်သော သူတို့ အား
ဖော်ပြကြပါမည်။

၈၀

၁ သိုးစုကို ပို့ဆောင် သကဲ့သို့ ယောသပ် အမျိုး
ကို ပို့ဆောင်တော် မူသော ဣသရေလ သိုးထိန်း
ကြီး၊ နားထောင်တော်မူပါ။ ခေရုဗိမ်တွင် ကျိန်း
ဝပ်တော် မူသော ဘုရား၊ ရောင်ခြည် တော် ကို
၂ ထွက်တော်မူပါ။-ဧဖရိမ်အမျိုး၊ ဗင်္ယာမိန်အမျိုး၊
မနာရှေအမျိုးတို့ရှေ့မှာတန်ခိုးတော်ကိုနှိုးဆော်
၍၊ အကျွန်ုပ်တို့ကိုကယ်တင် ခြင်းငှါကြွတော်မူ
၃ ပါ။- ဘိုဘုရားသခင်၊ အကျွန်ုပ်တို့ကိုပြောင်းလဲ
စေ၍၊ မျက်နှာတော်အလင်းကိုပြတော်မူပါ။ သို့
ပြုလျှင်၊ အကျွန်ုပ် တို့သည် ကယ် တင် ခြင်း သို့
ရောက်ကြပါလိမ့်မည်။
၄ ကောင်းကင် ဗိုလ်ခြေအရှင် ဘုရားသခင် ထာ
ဝရဘုရား၊ ကိုယ်တော် ၏ လူတို့ပြုသော ပဌနာ
ကား ကို အဘယ် မျှ ကာလ ပတ် လုံး အမျက်
၅ ထွက်တော်မူမည်နည်း။-သူတို့ကို မျက်ရည်မုန့်
နှင့်ကျွေး၍၊ မျက်ရည်ကိုလဦးကြွယ်ဝစွာတိုက်
၆ တော်မူ၏။-အနီးအပါး၌နေသောသူတို့သည်အ
ကျွန်ုပ်တို့အတွက်ငြင်းခုံကြပါ၏။ ရန်သူတို့သည်
လည်း ဝါကြွား၍၊ အကျွန်ုပ်တို့ကို ပြက်ရယ်ပြု
၇ ကြပါ၏။- ကောင်း ကင် ဗိုလ် ခြေ အရှင် ဘုရား
သခင်၊ အကျွန်ုပ်တို့ကို ပြောင်းလဲစေ၍၊ မျက်နှာ
တော် အလင်း ကို ပြ တော် မူပါ။ သို့ပြုလျှင် အ
ကျွန်ုပ် တို့သည် ကယ်တင်ခြင်းသို့ ရောက်ကြပါ
လိမ့်မည်။
၈ ကိုယ်တော်သည်စပျစ်နွယ်ပင်ကိုအဲဂုတ္တုပြည်
ကဆောင်ခဲ့၍၊ တပါးအမျိုးသားတို့ကို နှင်ထုတ်
၉ ပြီးမှ စိုက်ပျိုး တော် မူ၏။- သူ၏ နေရာကို ပြုပြင်
တော်မူသဖြင့်၊ သူသည်အမြစ်ကျ၍ တပြည်လုံး
၁၀ ကို နှံ့ပြားပါ၏။- သူ၏အရိပ်သည် တောင်တို့ကို
၎င်း၊ အခက် အလက် တို့ သည် အမြင့် ဆုံး သော
၁၁ အာရဇ်ပင်တို့ကို၎င်းလွှမ်းမိုးကြပါ၏။-သူသည်
အခက်အလက်တို့ကို၊ ပင်လယ်တိုင်အောင်၎င်း၊
အညွန့် တို့ကို မြစ်ကြီး တိုင် အောင် ၎င်း ဖြန့် ပွား
စေပါ၏။
၁၂ ယခု မူ ကား၊ လမ်း ၌ ရှောက် သွား သော သူ
အပေါင်းတို့သည်ဆွတ်စေခြင်းငှါ၊ သူ၏ခြံကိုအ
၁၃ ဘယ်ကြောင့်ချိုးဖျက်တော်မူသနည်း။- တော
ဝက်သည် ထိုအပင်ကိုကိုက်ခဲ၍၊ တောသားရဲ
၁၄ သည်ထည်းစားပါ၏။- ကောင်းကင်ဗိုလ်ခြေအ
ရှင်ဘုရားသခင်၊ တဖန် ကြွလာတော်မူမည် အ
ကြောင်းတောင်းပန်ပါ၏။ ကောင်းကင်ကကြည့်
ရှုတော်မူပါ။ ထိုစပျစ်နွယ် ပင်ကို အကြည့် အရှု
၁၅ ကြွလာတော်မူပါ။- လက်ျာလက်တော်နှင့်စိုက်
ပျိုးသောအပင်၊ ကိုယ်တော်အဖို့ခိုင်မာစေတော်
၁၆ မူသောပျိုးပင်ကို ကွယ်ကာတော်မူပါ။- မီးရှို့ပါ
ပြီ။ ခုတ် လှည်း ပါပြီ။ မျက်နှာ တော် ဖြင့် ဆုံးမ
ခြင်းကို ခံရသော သူ တို့ သည် ပျက်စီး ခြင်း သို့
၁၇ ရောက်ရကြပါ၏။- လက်ျာလက်တော်နှင့် ဆိုင်
သော လူ၊ ကိုယ် တော် အဖို့ ခိုင် မာ စေ တော် မူ
သောလူသား၏အပေါ်မှာလက်တော်ကိုတင်ပါ

၁၈ စေသော။- သို့ပြုလျှင် အကျွန်ုပ်တို့သည် ကိုယ်
တော်ထံမှ မဆုတ် ရကြပါ။ အကျွန်ုပ်တို့ကို အ
သက် ရှင်စေ တော်မူပါ။ နာမတော်ကို ပဌနာပြု
၁၉ ကြပါမည်။- ကောင်းကင်ဗိုလ်ခြေ အရှင်ဘုရား
သခင်ထာဝရဘုရား၊ အကျွန်ုပ်တို့ကိုပြောင်းလဲ
စေ၍၊ မျက်နှာတော် အလင်းကို ပြတော်မူပါ။
သို့ပြုလျှင် အကျွန်ုပ်တို့ သည် ကယ်တင်ခြင်းသို့
ရောက်ကြပါလိမ့်မည်။

၈၁

၁ ငါတို့ အစွမ်း သတ္တိတည်း ဟူ သော ဘုရား
သခင်အား ရွှင်လန်း စွာ သီခြင်း ဆိုကြလော့။
ယာကုပ်အမျိုး၏ဘုရားသခင်အားကျူးဧသော
၂ အသံကိုပြုကြလော့။-တူရိယမျိုးကိုဆောင်ကြ။
ပတ်သာကို ငင်၊ သာယာသော စောင်း နှင့် တ
၃ သောကိုငင်ယူခဲ့ကြ။- လဆန်းနေ့၊လပြည့်နေ့၊ပွဲ
၄ သတင်နေ့၌တံပိုးမှုတ်ကြ။- ထိုသို့ဣသရေလအ
မျိုး၌ ထုံးဖွဲ့၍၊ ယာကုပ် အ မျိုး၏ ဘုရားသခင်
၅ သည် ဆုံးဖြတ် တော်မူ၏။- နားမလည် သော
စကားကို ကြားရာအရပ်၊ အဲဂုတ္တုပြည်တဘက်
၌ကြွ သွားတော်မူသောအခါ၊ယောသပ်အမျိုး၌
ထိုသို့သောသက်သေခံချက်ကိုစီရင်တော်မူ၏။
၆ ငါသည်သူ၏ပခုံးကို ဝန်နှင့်လွတ်စေ၏။ သူ၏
လက်ကိုလည်းတောင်းခြင်းတို့အထဲက နှုတ်ယူ၏။-
၇ သင်သည် ဒုက္ခကို ခံရသောအခါ၊ ငါ့ကိုခေါ်၍ငါ
သည်ချမ်းသာပေး၏။မထင်ရှားသောမိုဃ်းကြိုး
နေရာ၌ငါပြန်ပြော၏။ မေရိဗရေနားမှာသင့်ကို
၈ ငါစုံစမ်း၏။- ငါ၏လူစု၊နားထောင်ကြလော့။ ငါမှာ
ထားမည်။ အို ဣသရေလ အမျိုး၊ သင် သည် ငါ့
၉ စကားကိုနားထောင်ပါစေသော။-သင်၌တပါးအ
မျိုး၏ဘုရားမရှိရ။ တကျွန်း တနိုင်ငံ ဘုရားကို မ
၁၀ ကိုးကွယ်ရ။-ငါသည်သင့်ကိုအဲဂုတ္တုပြည်မှကယ်
နှုတ် ဆောင်ယူခဲ့ ပြီး သော သင်၏ ဘုရားသခင်
ထာဝရဘုရားဖြစ်၏။သင်၏နှုတ်ကိုကျယ်ကျယ်
၁၁ ဖွင့်လော့။ ဝပြော စွာကျွေးမည်။- ငါ၏လူများမူ
ကား၊ ငါ့စကားကို နားမထောင်ကြ။ ဣသရေလ
၁၂ အမျိုးသည် ငါ့ကို အလိုမရှိကြပါတကား။- ငါ
သည်လည်းထိုသူတို့ကို သူတို့နှစ်လုံးခိုင်မာခြင်း
၌အပ်၍၊သူတို့သည်မိမိတို့အလိုသို့လိုက်ကြ၏။
၁၃ ငါ၏လူနှသည်ငါ့စကားကိုနားထောင်၍၊ ဣသ
ရေလ အမျိုးသည် ငါ့လမ်း၌ လိုက်ပါ စေသော။-
၁၄ ထိုက်လျှင် ငါသည် သူတို့ရန်သူများကို အလျှင်
အမြန် နှိမ့်ချ၍၊ ရန် ဘက် ပြု သော သူ တို့ကို
၁၅ ငါ၏ ဘက်ပတ်မည်။- ထာဝရဘုရားကိုမုန်းသောသူ
တို့သည် တောင်းပန်ခြင်းကို ပြု၍၊ ငါ၏လူတို့
သည်ထည်း၊ အစဉ်အမြဲတည်ရသော အခွင့်ရှိ
၁၆ ကြလိမ့်မည်။-အကောင်းဆုံးသောဆန်စပါးနှင့်
ငါကျွေးမည်။ ကျောက် ထဲက ထွက် သော ပျား
ရည်နှင့်လည်းဝပြောစေမည်။

၈၂

၁ ဘုရားသခင်သည်ဘုရားတို့၏ပရိသတ်၌ရပ်
လျက် နေတော်မူ၍၊ ဘုရား တို့ အထဲ၌ စီရင်
တော်မူ၏။
သင် တို့ သည် မ တရား သော သူ တို့ ၏ မျက်
နှာကို ထောက်၍၊ အဘယ်မျှကာလပတ်လုံး မ
၂ တရားသဖြင့်စီရင်ကြမည်နည်း။- ဆင်းရဲသော
သူနှင့် မိဘမရှိသောသူတို့ကို စောင့်မကြလော့။
ငြိုငြင်သောသူနှင့်ငတ်မွတ်သောသူတို့ အထဲ၌
၃ တရားစီရင်ကြလော့။- ဆင်းရဲသောသူနှင့်ငတ်
မွတ်သော သူတို့ကို မ တရား သော သူ၏ လက်မှ
၄ ကယ်နှုတ်ကြလော့။-သူတို့သည်မသိ၊နားမလည်
ကြ။ မှောင်မိုက်၌ကျင်လည်ကြ၏။မြေကြီးတိုက်
မြစ် အပေါင်းတို့သည် လှုပ်ရှားလျက် ရှိကြ၏။-
၅ သင်တို့သည်ဘုရားဖြစ်ကြ၏။ရှိသမျှတို့သည်အ
မြင့်ဆုံးသော ဘုရား၏သားဖြစ်ကြ၏ဟု ငါဆိုခဲ့
၆ တည်း။- သို့သော်လည်း၊ သင်တို့သည် လူကဲ့သို့
သေ၍၊ အခြားသော မင်းကဲ့သို့ ဆုံးရှုံးခြင်းသို့
ရောက်ကြလိမ့်မည်။
၇ အိုဘုရားသခင်၊ ထ၍မြေကြီးကို တရားစီရင်
တော်မူပါ။ ကိုယ်တော်သည်လူမျိုးအပေါင်းတို့
ကိုအပိုင်ရတော်မူ၏။

၈၃

၁ အိုဘုရားသခင်၊တိတ်ဆိတ်စွာနေတော်မမူပါ
နှင့်။ အိုဘုရားသခင်၊ အမိန့်တော်မရှိဘဲငြိမ်ဝပ်
စွာ နေတော်မမူပါနှင့်။- ကိုယ်တော်၏ ရန်သူတို့
သည် ရုန်းရင်း ခတ် ပြုကြ ပါ၏။ ကိုယ်တော်ကို
၂ မုန်းသောသူတို့သည် ထကြပါ၏။- ကိုယ်တော်
၏လူစုတဘက်၌ပရိယာယ်ကိုကြံ၍၊ကိုယ်တော်
ကွယ်ကာတော် မူသော သူတို့တဘက်၌ တိုင်ပင်
၃ ကြ ပါ၏။- ဣသရေလ၏ နာမကို နောက် တဖန်
အောင်းမေ့စရာ မရှိစေခြင်းငှါ လာကြ၊ သူတို့အ
၄ မျိုးကို ပယ်ဖြတ်ကြကုန်စို့ဟု ဆိုကြ ပါ၏။- ထ
သော တညီ တညွတ် တည်း တိုင် ပင်၍၊ ကိုယ်
တော်တဘက်၌ အချင်းချင်းသင်းဖွဲ့သောသူဟူမူ
၅ ကား။- ဧဒုံပြည်၌နေသောသူ၊ ဣရှမေလအမျိုး၊



 

သား၊ မောအဗ ပြည်သား၊ ဟာဂရ ပြည်သား၊-
၇ ဂေဗလပြည်သား၊အမ္မုန်ပြည်သား၊အာမလက်
ပြည်သား၊ တုရုမြို့သားနှင့်တကွ ဖိလိတ္တိ အမျိုး
၈ သားတို့သည် သင်းဖွဲ့ကြပါ၏။- အာရှုရိအမျိုး
သား တို့ သည် လည်း၊ ပိုင်း၍ လောတ အမျိုး
သားတို့ဘက်သို့ဝင်ကြပါ၏။
၉ မိဒျန်အမျိုးကိုရင်၊ကိရှုန်ချောင်းနားမှာသိသရ
မင်း နှင့်ယာဘိန်မင်းကိုရင်ပြုသကဲ့သို့ သူတို့ကို
၁၀ ပြုတော်မူပါ။- ထိုသူတို့သည်အေဒေါရ အရပ်၌
ဆုံးရှုံး၍၊ မြေပေါ်မှာနောက်ချေးကဲ့သို့ဖြစ်ကြပါ
၁၁ ၏။-ငါတို့သည်ဘုရားသခင်၏အိမ်များကိုကိုယ်
၁၂ သို့ သိမ်းယူကြကုန်အံ့ဟု ဆိုသောဩရဘမင်း
နှင့် ဇေဘမင်းကဲ့သို့၊ ဤသူတို့၏ မှူးမတ် များကို
၎င်း၊ ဇေဗဟမင်းနှင့် ဇာလမုန္နမင်းကဲ့သို့ ဤသူ
တို့၏ မင်းသား အပေါင်း ကို၎င် ဖြစ် စေတော် မူ
၁၃ ပါ။- အကျွန်ုပ်၏ဘုရားသခင်၊ လေဖြတ်၍ပါသွား
သောအမှိုက်ကဲ့သို့၎င်း၊လေတိုက်၍လွင့်သော ဖွဲ
၁၄ ကဲ့သို့၎င် သူတို့ကိုဖြစ်စေတော်မူပါ။- တောကို
မီးရှို့သကဲ့သို့၎င်၊တောင်ပေါ်မှာမီးလောင်သကဲ့
၁၅ သို့၎င်- ထိုနည်းတူ၊ မိုဃ်းသက်မုန်တိုင်းတော်
အားဖြင့်သူတို့ကိုညှဉ်းဆဲ၍၊ ပြင်းစွာသောလေ
၁၆ တော်အားဖြင့်ခြောက်လှန့်တော်မူပါ။- အိုထာ
ဝရဘုရား၊ သူတို့မျက်နှာကို ရှက်စေတော် မူ၍
၁၇ သူတို့သည်နာမတော်ကိုရှာကြပါစေသော။-စိတ်
ပျက်၍ အစဉ်ပင်ပန်းခြင်းရှိကြပါစေသော။ အ
ရှက်ကွဲ၍ဆုံးရှုံးခြင်းသို့ရောက်ကြပါစေသော။-
၁၈ ထာဝရ ဘုရား ဟူ၍ နာမ တော် ရှိသော ကိုယ်
တော် တပါးတည်းသာလျှင်၊ မြေကြီးတပြင်လုံး
အပေါ်မှာ အမြင့် ဆုံး သောဘုရား ဖြစ် တော်မူ
ကြောင်းကိုသိကြပါစေသော။

၈၄

၁ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား၊
ကိုယ်တော် ကျိန်းဝပ် တော် မူရာ အရပ် ဌာနတို့
သည်အလွန်နှစ်သက်ဖွယ်ဖြစ်ပါသည်တကား။-
၂ ထာဝရဘုရား၏ တန်တိုင်းတော်တို့ကိုအကျွန်ုပ်
၏ဝိညာဉ်သည်တသ၍ အားလျော့လျက်ရှိပါ၏။
အကျွန်ုပ်နှစ်လုံးနှင့်ကိုယ်ခန္ဓာသည်အသက်ရှင်
တော်မူသော ဘုရား သခင်ကို အလိုရှိ၍ ကျူး
၃ ကြော်ပါ၏။-ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား၊အကျွန်ုပ်၏ရှင်ဘုရင်၊ အကျွန်ုပ်၏ဘုရား
သခင်၊ အကယ်စင်စစ် ယဇ်ပလ္လင် တော်တို့အ
နားမှာစာငှက်သည် နေရာအရပ်ကို၎င်၊ ဇရက်
သည်လည်း သားငယ် ဖွားစရာ အသိုက်ကို ၎င်
၄ တွေ့ရပါ၏။-အိမ်တော်၌နေသောသူတို့သည်မင်္ဂ
လာရှိပါ၏၊ ကိုယ်တော်ကိုအစဉ်ချီးမွမ်းကြပါ
လိမ့်မည်။
၅ ကိုယ်တော်ကိုအားပြုသောသူသည်မင်္ဂလာရှိ
ပါ၏၊ ထိုသို့သောသူတို့သည်လမ်းခရီးတော်တို့
၆ ကိုနှစ်လုံးသွင်း တတ်ကြပါ၏။- သူတို့သည် ဗာ
ကာ လွင်ပြင်၌ ရှောက်သွားစဉ်၊ ထိုလွင်ပြင်ကို
စမ်းရေ ထွက်ရာ အရပ်ဖြစ် စေကြပါ၏၊ အရင်
မိုဃ်းရေလည်းမင်္ဂလာများနှင့်ပြွမ်းစေပါ၏။-
၇ သူတို့သည် အားတိုးတက်၍ခရီးသွားလျက်၊ ဇိ
အုန်မြို့မှာ ဘုရားသခင်ထံတော်၌ မျက်နှာပြကြ
ပါ၏။
၈ ကောင်းကင်ဗိုလ်ခြေ အရှင်ဘုရားသခင် ထာ
ဝရဘုရား၊ အကျွန်ုပ် ၏ ပဌနာ စကား ကို မှတ်
တော်မူပါ၊ ယာကုပ်အမျိုး၏ ဘုရားသခင်၊ နား
၉ ထောင် တော် မူပါ။- အကျွန်ုပ် တို့ကို ကွယ်ကာ
တော်မူသောဘုရား၊ ကြည့်ရှုတော် မူပါ၊ အထံ
တော်၌ဘိသိတ်ခံသောသူ၏မျက်နှာကိုထောက်
၁၀ ရှုတော်မူပါ။- တန်တိုင်းတော်တို့အတွင်း၌ နေ
သောတရက်သည် အခြားအရပ်၌ နေသော အ
ရက်တထောင်ထက်သာ၍ကောင်းပါ၏၊မတရား
သောသူ၏ နေ ရာ ၌ နေရ သော အခွင့် ထက်၊ အ
ကျွန်ုပ်၏ဘုရားသခင်အိမ်တော်၌တံခါးစောင့်အ
၁၁ ရာကို အကျွန်ုပ်သာ၍ နှစ်သက်ပါ၏။- ထာဝရ
အရှင် ဘုရားသခင်သည် နေလည်း ဖြစ်တော်မူ
၏၊အကွယ်အကာလည်းဖြစ်တော်မူ၏၊ထာဝရ
ဘုရားသည် ကျေးဇူးတော်နှင့်ဘုန်းအသရေကို
ပေးတော်မူ၏၊ ဖြောင့်မတ်စွာ ကျင့်သော သူတို့
အား ကောင်း သော အရာ ကို ငြင်း တော် မမူ။-
၁၂ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား၊ကိုယ်
တော်၌ခိုလှုံသောသူသည် မင်္ဂလာရှိပါ၏။

၈၅

၁ အို ထာဝရ ဘုရား၊ ကိုယ် တော် သည် ပြည်
တော်ကိုစိတ်နှင့် တွေ့တော်မူ၍၊ ဖမ်းဆီး သိမ်း
သွားခြင်းကို ခံရ သော ယာကုပ် အမျိုး သားတို့
၂ ကိုပြန်ပို့စေတော်မူပြီ။- ကိုယ်တော်၏ လူတို့ အ
ပြစ်ကို လွှတ် ၍၊ သူ တို့ ၏ ဒုစရိုက် အပေါင်းကို
၃ သည်း ဖုံးအုပ်တော်မူပြီ။- စိတ် တော် ရှင်းရှင်း
ပြေ၍၊ အမျက်တော် အရှိန်ကို လျော့စေ တော်မူ
ပြီ။- အကျွန်ုပ် တို့ကို ကယ် တင် တော် မူသော
ဘုရား၊ တဖန် အကျွန်ုပ်တို့ကို ပြောင်းလဲ စေ၍၊

ထွတ်ဘူးသောအမျက်တော်ကို ငြိမ်းစေတော်မူ
၅ ပါ။- အကျွန်ုပ်တို့၌အစဉ်အမျက်ထွက်တော်မူ
မည်လော၊ ကာလအစဉ်အဆက် မိတ်တော်မ
၆ ပြေဘဲနေတော်မူမည်လော၊-ကိုယ်တော်၏လူတို့
သည် ကိုယ် တော်ကို အမှီပြု၍ ဝမ်းမြောက်ပါ
မည်အကြောင်း၊ တဖန်အကျွန်ုပ်တို့ကိုအသက်
၇ ရှင်စေတော် မူမည် မဟုတ် လော၊- ထို ထာဝရ
ဘုရား၊ အကျွန်ုပ်တို့အားကရုဏာတော်ကိုပြ၍၊
ကယ်တင်တော်မူခြင်း ကျေးဇူးကိုပြုတော်မူပါ။
၈ ထာဝရအရှင်ဘုရားသခင်သည် အထယ်သို့
မိန့်တော်မူမည်ကို ငါနားထောင်မည်၊ အကယ်
စင်စစ်မိမိလူ၊ မိမိသန့်ရှင်း သူတို့အား ငြိမ်သက်
ခြင်း အကြောင်းကို မိန့်တော်မူလိမ့်မည်၊ သို့ရာ
တွင်၊ နောက်တဖန် မိုက်သောအကျင့်ကို မကျင့်
၉ ကြပါစေနှင့်၊-ငါတို့ပြည်၌ဘုန်းတော်ကျိန်းဝပ်
မည်အကြောင်း၊ ကယ်တင်တော်မူခြင်းကျေးဇူး
သည်ဘုရားသခင်ကို ကြောက်ရွံ့သော သူတို့၏
၁၀ အနီးသို့ ဧကန် အမှန်ရောက် လေပြီ၊- ကရုဏာ
နှင့်သစ္စာဆုံမိပြီ၊တရားနှင့်ငြိမ်းသာသည်တပါး
၁၁ ကိုတပါးနမ်းကြပြီ၊- သစ္စာသည် မြေကြီးထဲက
ပေါက်လိမ့်မည်၊တရားသည်လည်း၊ကောင်းကင်
၁၂ ပေါ်ကငုံ့ကြည့်လိမ့်မည်၊- အကယ်စင်စစ်ထာဝရ
ဘုရားသည်ကျေးဇူးပြုတော်မူ၍၊ငါတို့မြေသည်
၁၃ မိမိအသီးအပွင့်ကို ပေးလိမ့်မည်၊- တရားသည် ရှေ့
တော်၌သွား၍ခြေတော်ရာတို့ကိုပွဲပျှင်လိမ့်မည်။

၈၆

၁ ထိုထာဝရ ဘုရား၊ နားတော်ကို လှည့်၍ အ
ကျွန်ုပ်စကားကိုနားထောင်တော်မူပါ။ အကျွန်ုပ်
၂ သည်ဆင်းရဲငတ်ငွတ်ပါ၏၊- အကျွန်ုပ်၏ဘုရား
သခင်၊သန့်ရှင်းသူတို့အ ိဖြစ်သောအကျွန်ုပ်၏
ဝိညာဉ်ကို စောင့် မ၍၊ ကိုယ် တော် ကို ကိုး စား
သော ကိုယ် တော်၏ ကျွန်ကို ကယ်တင် တော်မူ
၃ ပါ။- ထိုထာဝရ ဘုရား၊ အကျွန်ုပ်သည် ကိုယ်
တော်ကိုအစဉ်အော်ဟစ်ပါသည်ဖြစ်၍၊ ကယ်
၄ မသနား တော်မူပါ။- ထိုထာဝရဘုရား၊ ကိုယ်
တော်ကို အကျွန်ုပ်တသ ပါသည်ဖြစ်၍၊ ကိုယ်
တော်၏ကျွန်သည် ဝမ်းမြောက်မည်အကြောင်း
ပြုတော်မူပါ။
၅ ထိုထာဝရဘုရား၊ ကိုယ်တော်သည် ကောင်း
သောသဘော၊ သည်းခံတတ်သော သဘောနှင့်
ပြည့်စုံ၍၊ ကိုယ်တော်ကို ပဌနာပြုသော သူအ
ပေါင်းတို့အား ကရုဏာတော် ကြွယ်ဝပါ၏။-
၆ ထိုထာဝရ ဘုရား၊ အကျွန်ုပ်၏ပဌနာ စကားကို
နား ထောင်တော် မူပါ၊ အသနားတော် ခံသော
စကားသံကို မှတ်တော်မူပါ၊ ဆင်းရောက် သည်
၇ ကာလ၊ကိုယ်တော်ကိုခေါ်ပါမည်၊- ကိုယ်တော်
၈ လည်းထူးတော်မူတတ်ပါ၏၊-ထိုထာဝရဘုရား
ဘုရားတို့တွင် ကိုယ်တော်နှင့်တူသောဘုရားမရှိ
ပါ၊ အမှုတော်နှင့် တူသော အမှုလည်း မရှိပါ။-
၉ ထိုထာဝရဘုရား၊ ဖန်ဆင်းတော်မူသော လူမျိုး
အပေါင်း တို့သည် ချဉ်းကပ် လျက် ရှေ့တော်၌
ပြပ်ဝပ်၍၊ နာမတော်ကို ရိုးသေ ကြပါ လိမ့်
၁၀ မည်၊- ကိုယ် တော် သည် ကြီး မြတ်၍ အံ့ဩဖွ
ယ် တို့ ကို ပြု တော် မူ ၏၊ ကိုယ် တော် တ ပါး
တည်းသာလျှင်ဘုရားသခင် ဖြစ်တော်မူ၏။
၁၁ ထိုထာဝရ ဘုရား၊ ကိုယ်တော်၏ လမ်းကိုအ
ကျွန်ုပ် အား ပြသွန် တော် မူ ပါ၊ ကိုယ် တော် ၏
သမ္မာတရား လမ်းသို့ လိုက် သွား ပါ မည်၊ နာမ
တော်ကို ကြောက်ရွံ့မည် အကြောင်း၊ အကျွန်ုပ်
၁၂ ၏နှစ် လုံးကို စေ့စပ်စေ တော် မူပါ၊- အကျွန်ုပ်၏
ဘုရားသခင်ထာဝရဘုရား၊ အကျွန်ုပ်သည်ကိုယ်
တော်ကို စိတ်နှစ်လုံးအကြွင်းမဲ့ ချီး မွမ်း၍၊ နာမ
၁၃ တော်ကိုအစဉ်အမြဲ ရိုးမြောက်ပါမည်၊-အကျွန်ုပ်
ခံရသောကရုဏာတော် ကြီးလှပါ၏၊ အကျွန်ုပ်
၏ဝိညာဉ်ကို မရဏာ နိုင်ငံ အောက် အရပ်ထဲက
၁၄ ကယ်နှုတ်တော်မူပြီ၊-ထိုဘုရားသခင်၊မာနကြီး
သော သူတို့ သည် အကျွန်ုပ် တဖက်၌ ထကြ၍၊
ကြမ်းတမ်းသော လူအစုအဝေးတို့သည် ကိုယ်
တော်ကိုမျက်မှောက်မပြုဘဲ၊ အကျွန်ုပ် အသက်
၁၅ ကိုရှာကြပါ၏၊- ထိုထာဝရဘုရား၊ ကိုယ်တော်
သည်သနားစုံမက်တတ်သောသဘော၊ကျေးဇူး
ပြုတတ်သော သဘော၊ သည်းခံ တတ်သော သ
ဘော၊ကရုဏာနှင့်သစ္စာကြွယ်ဝသောသဘော
၁၆ နှင့်ပြည့်စုံသောဘုရားဖြစ်တော်မူ၏၊- အကျွန်ုပ်
ကိုမျက်နှာပြု၍ ကယ်မသနားတော်မူပါ၊ ကိုယ်
တော်၏ကျွန်အား တန်ခိုးတော်ကို ပေး၍၊ ကိုယ်
၁၇ တော်၏ကျွန်မသား၊ကို ကယ်တင်တော်မူပါ။- အ
ကျွန်ုပ်အား ကောင်းသောနိမိတ်လက္ခဏာကိုပြ
တော်မူပါ၊ အကျွန်ုပ်ကို မုန်းသောသူတို့သည်မြင်
၍ရှက်ကြောက်ကြပါစေ၊ အကြောင်းမူကား၊ ထို
ထာဝရဘုရား၊ ကိုယ်တော်သည် အကျွန်ုပ်ကိုမစ
၍ချမ်းသာပေးတော်မူ၏။

၈၇

၁ ဘုံဗိမာန် တော် ထိုတ် မြဲသည် ထန့်ရှင်း

၂ သောတောင်မြို့ပေါ်မှာတည်လျက်ရှိ၏။- ထာဝ
ရဘုရားသည်ယာကုပ်၏နေရာအပေါင်းတို့ထက်၊
ဇိအုန် တံခါးတို့ကိုသာ၍ နှစ်သက် တော်မူ၏။-
၃ အိုဘုရားသခင်၏မြို့တော်၊သင်သည်ဘုန်းအသ
ရေ ကြီး လိမ့်မည် ဟူသော စကားကို ပြောထား
၄ လျက်ရှိ၏။- ငါ ကို သိကျွမ်းသော သူတို့တွင်၊ ရာ
ခပ် မြို့ နှင့် ဗာဗုလုန် မြို့ ကို ငါ မှတ် ထား မည်။
ဖိလိတ္တိပြည်၊ တုရုပြည်၊ ကုရှပြည် တို့ကိုလည်း
ကြည့်ကြ လော့။ ဤမည်သော ပြည်သား သည်
၅ မြို့တော် ၌ ဖွားမြင်သော သူဖြစ်၏။- ဇိအုန်မြို့ကို
လည်း လူအမျိုးမျိုးတို့သည် ထိုမြို့၌ ဖွားမြင်ကြ
ပြီ။ အမြင့်ဆုံးသောဘုရားသည် ထိုမြို့ကို ကိုယ်
တော်တိုင် မြဲမြံစေတော်မူပြီဟု ပြောဆိုကြလိမ့်
၆ မည်။- ထာဝရဘုရားသည် လူမျိုးတို့ကိုစာရင်း
ယူတော်မူသောအခါ၊ ဤမည်သောအမျိုးသည်
မြို့တော်၌ ဖွားမြင်သော အမျိုးဖြစ်သည်ဟုမှတ်
၇ တော်မူမည်။- သီခြင်းသည်နှင့် ပွဲသဘင်ခံသော
သူ အစရှိသော ငါ၏ ပျော်မွေ့ခြင်း အကြောင်းရှိ
သမျှတို့သည်သင်၌ရှိကြသတည်း။

၈၈

၁ အကျွန်ုပ်ကို ကယ် တင် တော် မူသော ဘုရား
သခင် ထာဝရ ဘုရား၊ အကျွန်ုပ်သည် ရှေ့တော်
၂ ၌နေ့ညဉ့် မပြတ် အော်ဟစ်ပါ၏။- အကျွန်ုပ်ပြု
သောပဌနာသည်အထံတော်သို့ ဝင်ပါစေသော။
၃ အော်ဟစ်သံကိုနားထောင်တော်မူပါ။-အကျွန်ုပ်
၏ဝိညာဉ်သည်ဒုက္ခနှင့် ပြည့်၍၊ အသက်သည်
လည်း မရဏာ နိုင်ငံ အ နီး သို့ ရောက် ပါ ပြီ။-
၄ အကျွန်ုပ်သည် သင်းချိုင်းတွင်းထဲသို့ဆင်းသော
သူတို့နှင့်အတူရေတွက် ဝင်ခြင်းသို့ရောက်ပါ၏။
၅ အား ကုန် သော သူ ကဲ့ သို့ ဖြစ် ပါ ၏။- အသေ
ကောင်တို့တွင် ဖြစ် ထား သောသူ၊ ကွပ် မျက်၍
သင်း ချိုင်း တွင်း၌ အိပ် နေသော သူ တည်း ဟူ
သော အောင်း မေ့ တော် မမူ၊ ထက် တော်၏ မစ
ခြင်း နှင့် ကွာ ဝေး သော သူ ကဲ့ သို့ ဖြစ် ပါ ၏။-
၆ အကျွန်ုပ်ကို အနက် ဆုံးသောတွင်း၊ မှောင်မိုက်
ဖုံး လွှမ်း၍ အလွန် နက် နဲသော အရပ်၌ ချထား
၇ တော်မူပြီ။- အမျက်တော်သည်အကျွန်ုပ်အပေါ်
၌ မိလျက်ရှိပါ၏။ လှိုင်းတံပိုးတော် အပေါင်းတို့
၈ နှင့် နှိပ် စက် တော် မူ ၏။- အကျွန်ုပ် ၏ အသိ အ
ကျွမ်း များ ကို အဝေးသို့ ရွှေ့ တော် မူပြီ။ သူတို့
အား အကျွန်ုပ်ကို စက်ဆုပ်ရွံရှာဘွယ် ဖြစ်စေတော်မူပြီ။
အကျွန်ုပ် သည် အချုပ်ခံရ၍၊ ပြင်သို့ မထွက်ရ
၉ ပါ။- အကျွန်ုပ် ခံရသော ဒုက္ခကြောင့် အကျွန်ုပ်
မျက်စိသည်ပျက်ပါ၏။ အိုထာဝရဘုရား၊ ကိုယ်
တော်ကို အစဉ် အော် ဟစ်ပါ၏။ အထံတော်သို့
လက်ကိုဆန့်ပါ၏။
၁၀ သေလျက် နေသော သူတို့အား အံ့ဩဘွယ်သော
အမှုတို့ကို ပြတော်မူမည်လော။ သင်းချိုင်းသား
တို့သည်ထ၍ ကိုယ်တော်ကို ချီးမွမ်းကြပါမည်
၁၁ လော။-ကရုဏာတော်ကိုသင်းချိုင်းတွင်း၌၎င်း၊
သစ္စာတော်ကိုပျက်စီးရာအရပ်၌၎င်း ကြားပြော
၁၂ ရကြပါမည်လော။- အံ့ဩဘွယ်သောအမှုတော်တို့
ကိုမှောင်မိုက်သောအရပ်၌၎င်း၊မေ့ကြောင့်မတ်တော်
မူခြင်း တရားကို မေ့လျော့ရာပြည်၌၎င်း သိရကြ
၁၃ ပါမည်လော။- အိုထာဝရဘုရား၊ ကိုယ်တော်
ကို အကျွန်ုပ်အော်ဟစ်ပါ၏။ နံနက် အမှန် ၌ အ
ကျွန်ုပ်၏ပဌနာသည် ရှေ့တော်သို့ ရောက်ပါ၏။-
၁၄ အိုထာဝရဘုရား၊ အကျွန်ုပ်၏ဝိညာဉ်ကိုအဘယ်
ကြောင့် ပယ်တော် မူသနည်း။ မျက်နှာ တော်ကို
အကျွန်ုပ်မှအဘယ်ကြောင့်ဖွဲ့တော်မူသနည်း။-
၁၅ အကျွန်ုပ်သည်ဒုက္ခဝေဒနာကိုခံရ၍သေဆဲရှိပါ
၏။ စီရင်တော် မူသော ဘေးများ ကို ငယ်သော
၁၆ အရွယ်ကပင်ခံရ၍ ပင်ပန်းပါ၏။- အမျက်တော်
သည် အကျွန်ုပ်ကို လွှမ်း မိုး ပါ၏။ စီရင် တော်မူ
သောဘေးတို့သည်အကျွန်ုပ်၏အသက်ကိုညှဉ်း
၁၇ ဆဲ သည် တိုင် အောင်- ရေကဲ့သို့ အစဉ်မပြတ်
၁၈ ဝိုင်း၍တညီတညွတ်တည်းဝန်းရံကြပါ၏။- ချစ်
သောသူနှင့် အဆွေခင်ပွန်းကိုအကျွန်ုပ်နှင့် ဝေး
ဝေးရွှေ့တော်မူပြီ။အသိအကျွမ်းတို့သည်မှောင်
မိုက်ထဲမှာရှိကြပါ၏။

၈၉

၁ အကျွန်ုပ် သည် ထာဝရ ဘုရား၏ ကရုဏာ
တော်ကို အစဉ်အမြဲ သီခြင်းဆိုပါမည်။ ကိုယ်
တော်၏ သစ္စာကို လူမျိုး အ ဆက် ဆက်တို့အား
၂ ဟောပြော မြွက် ဆို ပါ မည်။- ကရုဏာ တော်
သည်အစဉ် အမြဲ တည်ရပါ၏။ သစ္စာတော်ကို
ကောင်းကင် ၌ မိုင်ခံ့ မြဲမြံစေတော်မူသည်ဟု၊ အ
၃ ကျွန်ုပ် သဘောကျပါ၏။- ကိုယ်တော်မိန့်တော်
၄ မူသည် ကား၊ သင်၏ အမျိုး အ နွယ်ကို အစဉ်
မပြတ်ငါမြဲမြံစေမည်။သင်၏ပလ္လင်ကိုလည်းလူ
မျိုးအဆက်ဆက်တည်စေမည်ဟုငါရွေးကောက်
သောသူနှင့်၊ ငါသည် ပဋိညာဉ်ဖွဲ့၍၊ ငါ၏ကျွန်
ဒါဝိဒ်အားကျိန်ဆိုခြင်းကိုပြုပြီ။
၅ အိုထာဝရ ဘုရား၊ကောင်းကင်သည်အံ့ဩဘွယ်



 

သော အမှုတော်တို့ကိုငှင်၊ သန့်ရှင်းသူ တို့သည်
စည်းဝေးလျက်သ ချီးတော်ကိုငှင် ချီးမွမ်းကြပါ
၆ စေသော်။-အကြောင်းမူကား၊ ကောင်းကင်တွင်
ထာဝရ ဘုရားနှင့် အတူသူ ပြိုင်နိုင် သနည်း။
ဘုရားသခင်၏သားတို့တွင်ထာဝရဘုရားနှင့်အ
၇ အတူသူ တူသနည်း။- ဘုရား သခင်သည် သန့်
ရှင်းသူတို့၏ ပရိသတ်တွင် အလွန် ကြောက်ရွံ့
ဖွယ် ဖြစ်တော်မူ၏၊ အထံတော်၌ ပတ်လည်နေ
သော သူအပေါင်းတို့ထက် ရိုသေဖွယ် ဖြစ်တော်
၈ မူ၏။- ကောင်းကင်ဗိုလ်ခြေအရှင် ဘုရားသခင်
ထာဝရဘုရား၊၊ ကိုယ်တော်နှင့်အတူသူတူပါ
သနည်း၊၊ ထာဝရဘုရားသည်ဒွန်အားကြီးတော်
မူ၏၊ သစ္စာတော်သည်းကိုယ်တော်ကို ပတ်ဝန်း
၉ လျက် ရှိပါ၏။- သမုဒ္ဒရာ ထန်းခြင်းကို အစိုးရ
တော် မူ၏၊ လှိုင်း တံပိုး ထသော အခါ ငြိမ်း စေ
၁၀ တော်မူ၏။- ကိုယ်တော်သည် သူရဲ ကဲ့သို့ ရာခပ်
ကိုချိုးဖျက်၍၊ အားကြီးသောလက်ရုံးတော်ဖြင့်
ရန်သူ တို့ကိုအရပ်ရပ်သို့ ကွဲပြားစေတော်မူ၏။-
၁၁ ကောင်းကင်နှင့်မြေကြီးသည် ကိုယ်တော်၏ဥစ္စာ
ဖြစ်ပါ၏၊ လောကဓာတ်နှင့် လောကဓာတ် တန်
၁၂ ဆာများကို တည်တော်မူပြီ။- မြောက် မျက်နှာ
နှင့် တောင် မျက်နှာ ကိုလည်း ဖန် ဆင်း တော် မူ
ပြီ၊ တာဗော် တောင်နှင့်ဟေရမုန် တောင်သည်
နာမတော်ကို အမှီပြု၍ ရွှင်လန်းစွာ ဘိခြင်း ဆို
၁၃ ကြပါ၏။- တန် ခိုး ရှိသော လက် ရုံးနှင့် ပြည့်စုံ
တော်မူ၏၊ လက်တော်သည်အားကြီး၍၊ လက်ျာ
၁၄ လက်တော်သည်မြင့်ပါ၏။- တရားသဖြင့် စီရင်
ခြင်း၊၊ ဖြောင့်မတ်စွာ ဆုံးဖြတ်ခြင်းသည် ပလ္လင်
တော်၏ တည်ရာ ဖြစ်ပါ၏၊ ကရုဏာ နှင့် သစ္စာ
၁၅ သည် မျက် နှာတော် ရှေ့၌ သွားကြ ပါ၏။- ဟို
ထာဝရ ဘုရား၊ ကြွေးကြော် တော် မူခြင်း အသံကို
၁၆ နား ထည်သော လူမျိုးသည်မင်္ဂလာရှိပါ၏။- သူ
တို့သည် မျက်နှာတော်အလင်း၌ သွားလာရကြ
ပါ၏၊ နာမတော်၌ အစဉ်ဝမ်းမြောက်၍ဖြောင့်
မတ်တော်မူခြင်း၊ တရားအားဖြင့် ချီးမြှောက်ခြင်း
၁၇ သို့ရောက်ရကြပါ၏။-ကိုယ်တော်သည်သူတို့အ
စွမ်းသတ္တိ၏ ဘုန်းဖြစ်တော်မူ၏၊ ကျေးဇူးတော်
အားဖြင့် လည်း အကျွန်ုပ် တို့၏ ဦးချိုသည် ချီး
၁၈ မြှောက် လျက် ရှိပါ၏။- ထာဝရဘုရားသည် အ
ကျွန်ုပ်တို့ကို ကွယ်ကာတော်မူ၏၊ ဣသရေလအ
မျိုး၏သန့်ရှင်းသောဘုရားသည် အကျွန်ုပ်တို့၏
ရှင်ဘုရင်ဖြစ်တော်မူ၏။

၁၉ တစ်ရံရောအခါကိုယ်တော်၏သန့်ရှင်းသူတို့ကို
ဗျာဒိတ် တော် အား ဖြင့် မိန့်မြွက် တော် မူသည်
ကား၊၊အားကြီးသောသူသည်ကူမမည့်အကြောင်း
ငါခန့်ထားပြီ၊ လူစုထဲက ရွေးကောက်သော သူ
၂၀ တစ်ယောက်ကိုငါချီးမြှောက်ပြီ။- ငါ၏ကျွန်ဒါဝိဒ်
ကိုငါတွေ့၍၊ သန့်ရှင်းသောဆီနှင့်တိသိတ်ပေး
၂၁ ပြီ။-သူ့ထက်မှာငါ့လက်သည်တည်လိမ့်မည်၊ ငါ
၂၂ လက်ရုံးသည် သူ့ကို မြဲမြံ ခိုင်ခံ့ စေမည်၊ ရန်သူ
သည်သူ၏ဥစ္စာကိုအနိုင်အထက်မယူရ၊မတရား
၂၃ သောသူသည်မညှဉ်းဆဲရ၊- သူ၏ရန်သူတို့ကို
သူ့ရှေ့မှာ ငါနှိပ်စက်၍၊ သူ့ကိုမုန်းသောသူတို့ကို
၂၄ ဒါဏ်ခတ်မည်။- ငါ၏သစ္စာနှင့်ကရုဏာသည်
သူ့ထက်မှာနေ၍၊ ငါ၏ နာမအားဖြင့် သူ၏ဦးချို
၂၅ သည် ချီးမြှောက်လျက်ရှိလိမ့်မည်။- သူ၏လက်
ကို လည်း၊ ပင်လယ် ပေါ်မှာ ငှင်၊ သူ၏ လက်ျာ
လက်ကိုမြစ်များပေါ်မှာငှင်ငါတင်၍ထားမည်။-
၂၆ သူကလည်း၊ ကိုယ်တော်သည်အကျွန်ုပ်၏အဘ၊
အကျွန်ုပ်၏ဘုရားသခင်၊ အကျွန်ုပ်ကိုကယ်တင်
ရာကျောက် ဖြစ်တော် မူ၏ ဟု၊ ငါ့ကိုခေါ်ကြွေး
၂၇ လိမ့်မည်။- အကယ်စင်စစ်သူ့ကိုသားဦးအရာ၌
ခန့်ထား၍၊ လောကီရှင်ဘုရင်တို့ အပေါ်မှာ ချီး
၂၈ မြှောက်မည်။-ငါ၏ကရုဏာကိုသူ့အဖို့ ငါသည်
အစဉ် စောင့် ၍၊ ငါ၏ ပဋိညာဉ်တရား သည်
၂၉ သူ့၌ မြဲမြံ လိမ့်မည်။- သူ၏အမျိုးအနွယ်ကိုအ
စဉ်အမြဲတည်စေမည်၊သူ၏ပလ္လင်သည်ကောင်း
ကင်ကာလကဲ့သို့ရှိစွာထာဝရဖြစ်လိမ့်မည်။
၃၀ သူ၏ သားမြေး တို့သည် ငါ့တရားကို စွန့်ပစ်
၃၁ ၍၊ငါ၏စီရင်ချက်တို့ကိုမကျင့်၊-ငါ၏အထုံးအဖွဲ့
တို့ကိုရှုတ်ချ၍၊ ငါ၏ပညတ်တို့ကို မစောင့်ဘဲရှေ
၃၂ ကျွင်-ငါသည်သူတို့ပြစ်မှားသောကြောင့်၊ကြိမ်
လုံးနှင့်ဆုံးမ၍ဒါဏ်ချက်တို့နှင့်ဒုစရိုက်အထိုင်း
၃၃ အပြစ်ပေးမည်၊-သို့သော်ထဲ၊၊ငါ၏ကရုဏာ
ကိုသူမှ ငါမနုတ်မပယ်၊ ငါ၏သစ္စာကိုလည်းမ
၃၄ ဖျက်၊- ငါ၏ ပဋိညာဉ်တရားကိုလည်း၊ မရုတ်ချ
ငါမိန့်မြွက်သော စကားလည်း ဖောက်ပြန် ခြင်း
၃၅ မရှိရ၊-ငါသည်ဒါဝိဒ်ကိုမလှည့်စားဟုငါ၏သန့်
ရှင်းခြင်းဟါရမီ ကိုတိုင်တည်၍ တခါကျိန် ဆိုပြီ-
၃၆ သူ၏ အမျိုး အနွယ် သည် အစဉ်အမြဲ တည်ရ
မည်၊ သူ၏ပလ္လင်သည်လည်း၊ ငါ့ရှေ့၌ နေကဲ့သို့
၃၇ ဖြစ်ရမည်၊- လ ကဲ့သို့ငှင်၊ မိုဃ်း ကောင်းကင်၌
သစ္စာစောင့်သောသက်သေကဲ့သို့ငှင်၊ အစဉ်မြဲ
မြဲရမည်ဟု၊ကိုယ်တော်သည်မိန့်တော်မူပါပြီ။

၃၈ ထိုသော်လည်း၊ ကိုယ်တော်သည် ယခု စွန့်
ပယ်၍ ရွံ့ရှာတော်မူပြီ။ အထံတော်၌ဘိသိတ်
၃၉ ခံသောသူကို အမျက်ထွက်တော်မူပြီ။- ကိုယ်
တော်၏ကျွန်နှင့်ဖွဲ့သော ပဋိညာဉ်ကိုဖျက်၍၊ သူ၏
၄၀ သရဖူကိုမြေတိုင်အောင်ရှုတ်ချတော်မူပြီ။-သူ၏
မြို့ရိုးသမျှတို့ကိုဖြိုး၍၊ သူ၏တိုက်များကို ဖြိုဖျက်
၄၁ တော်မူပြီ။- လမ်း၌ ရှောက်သွားသော သူ အ
ပေါင်းတို့သည်သူကိုလုယူကြ၏။ အိမ်နီးချင်းတို့
၄၂ တွင်ကဲ့ရဲ့ဖွယ်ဖြစ်ပါ၏။- သူ၏ရန်သူတို့ လက်ျာ
လက်ကိုချီးမြှင့်၍၊ရန်ဘက်ပြုသောသူအပေါင်း
၄၃ တို့ကို ဝမ်းမြောက် စေ တော် မူ၏။- သူ၏ ထား
သွားကိုလိပ်စေ၍၊သူစစ်တိုက်ရာတွင်ထောက်မ
၄၄ တော်မမူပါ။- သူ၏ဘုန်းကိုကွယ်စေ၍၊သူ၏ရာ
၄၅ ဇပလ္လင်ကိုမြေသို့နှိမ့်ချတော်မူပြီ။-သူ၏ပျိုသော
အရွယ်ကိုတိုစေ၍အရှက်ခွဲတော်မူပြီ။
၄၆ အိုထာဝရဘုရား၊ ကိုယ်တော်သည် အလျှင်း
မထင်ရှားဘဲ၊ အဘယ်မျှကာလပတ်လုံးပုန်း၍
နေတော်မူမည်နည်း။ အမျက်တော်သည် အ
ဘယ်မျှကာလပတ်လုံးမီးကဲ့သို့လောင်ရပါမည်
၄၇ နည်း။- အကျွန်ုပ်၏ အသက်တာသည် အဘယ်
မျှလောက်တိုသည်ကိုဖင်၊ အဘယ်မျှလောက်
ပျက်တတ်စေခြင်းငှါ၊ လူသားအပေါင်း တို့ကို
ဖန်ဆင်းတော်မူသည်ကိုဖင် အောက်မေ့တော်မူ
၄၈ ပါ။- သေခြင်းသို့ မရောက်၊ အသက်ရှင်၍ မိမိ
ဝိညာဉ်ကိုမရဏာနိုင်ငံတန်ခိုးမှ ကယ်နှုတ်နိုင်
၄၉ သော သူကား၊ အဘယ်သူ နည်း။- အိုထာဝရ
ဘုရား၊ သစ္စာတော်နှင့်တကွ ကိုယ်တော်၏ကျွန်
ဒါဝိဒ်အား ကျိန်ဆိုတော်မူသော ရှေးကရုဏာ
၅၀ တော်သည် အဘယ်မှာ ရှိပါသနည်း။- အိုထာ
ဝရဘုရား၊ ကိုယ်တော်၏ကျွန်တို့သည် ခံရသော
ကဲ့ရဲ့ခြင်း ကို အောက်မေ့ တော် မူပါ။ များ စွာ
သော လူတို့၏ အမှု အလုံး စုံကို အကျွန်ုပ် သည်
၅၁ ကိုယ် ရင် ခွင်၌ ဆောင် ရ ပါ၏။- အကြောင်း မူ
ကား၊အိုထာဝရဘုရား၊ ကိုယ်တော်၏ရန်သူတို့
သည်ကဲ့ရဲ့တတ်ကြပါ၏။ အထံတော်၌ဘိသိတ်
ခံသောသူ၏ ခြေတော်ရာ တို့ကို ကဲ့ရဲ့တတ်ကြပါ
၅၂ ၏။-ထာဝရဘုရားသည်ကမ္ဘာအဆက်ဆက်မင်္ဂ
လာရှိတော်မူစေသတည်း။ အာမင်နှင့်အာမင်။

၉၀

ဘုရားသခင်၏လူမောရှေပြုသောပဌနာ။

၁ အိုဘုရားရှင်၊ကိုယ်တော်သည်ကာလအစဉ်
အဆက် အကျွန်ုပ် တို့ ၏ ခိုလှုံရာ ဖြစ် တော်မူ ၏။-
၂ တောင်များကိုမဖော်၊ မြေကြီးနှင့်လောကဓာတ်
ကို ဖန်ဆင်းတော် မမူမှီ၊ ကိုယ်တော်သည် ရှေး
ကမ္ဘာအဆက်ဆက်မှစ၍၊နောက်ကမ္ဘာအဆက်
ဆက်တိုင်အောင် ဘုရားသခင် ဖြစ်တော်မူ၏။-
၃ လူမျိုးကိုကား၊ ကြေမွစေတော် မူ၏။ အချင်းလူ
၄ သားတို့၊ ပြန် ကြ လော့ဟု မိန့်တော်မူ၏။- ရှေ့
တော်၌ အနှစ် တထောင်သည် လွန်ပြီးသော မ
နေ့ကဲ့သို့၎င်း၊ ညဉ့်ယံတယံကဲ့သို့၎င်းဖြစ်ပါ၏။-
၅ လူတို့ကို လွှမ်းမိုး တိုက် သွား တော် မူ၏။ သူတို့
သည်အိပ်ပျော်ခြင်းကဲ့သို့ဖြစ်ကြပါ၏။ လူသည်
မြက် ပင်ကဲ့သို့ နံနက် အချိန်၌ တိုးပွား တတ်ပါ
၆ ၏။- နံနက်အချိန်၌ကား၊ ပွင့်လန်း၍ တိုးပွားပါ
၏။ ညဦးအချိန်၌ကား၊ ရိတ်၍ညှိုးနွမ်းပါ၏။-
၇ အမျက် တော်ထွက်သော အားဖြင့် အကျွန်ုပ်တို့
သည်ပျက်စီးခြင်းသို့ရောက်ကြပါ၏။ဒေါသတော်မ
ပြေသောကြောင့်၊ စိုးရိမ်တုန်လှုပ်ခြင်း ရှိကြပါ
၈ ၏။-အကျွန်ုပ်တို့၏ဒုစရိုက်များကိုရှေ့တော်၌၎င်း၊
ဝှက်ထားသောအကျင့်များကို မျက်နှာတော်အ
၉ လင်းထဲ၌၎င်း လှန်ထားတော်မူ၏။- အကျွန်ုပ်တို့
သည်အမျက်တော်ကိုခံရသောကြောင့်၊ နေ့ရက်
ကာလရွေ့သွား၍၊ နှစ်များတို့သည် စိတ်ထင်ကဲ့
၁၀ သို့လွန်တတ်ကြပါ၏။- အကျွန်ုပ်တို့၏ အသက်
အရွယ်သည် အနှစ်ခုနှစ်ဆယ် အတိုင်းအရှည်
ရှိပါ၏။ အား ကြီး၍ အနှစ် ရှစ်ဆယ် ပြည့်သော်
လည်း၊ ဝါကြွားခြင်းသည် ပင်ပန်းခြင်းနှင့်ဝမ်း
နည်း ခြင်း ဖြစ် ပါ၏။ ထို အသက် သည်လည်း၊
မြန် မြန်လွန်၍၊ အကျွန်ုပ် တို့သည် စုတေ့ကြပါ
၁၁ ၏။- အမျက်တော်အရှိန်ကိုအဘယ်သူသိပါသ
နည်း။ အမျက်ထွက်တော် မူခြင်းကို ကြောက်ရွံ့
သင့်သည် အတိုင်းအဘယ်သူ ကြောက်ရွံ့ပါသ
၁၂ နည်း။- အကျွန်ုပ်တို့သည် ပညာ တရားကို နှစ်
လုံးသွင်းမိ မည်အကြောင်း၊ ကိုယ်နေ့ရက် ကာ
လကိုရေတွက်နိုင်စေခြင်းငှါ သွန်သင်တော်မူပါ။
၁၃ အိုထာဝရဘုရား၊ပြန်လာတော်မူပါ။အဘယ်
မျှ လောက် ကြာရ ပါမည် နည်း။ ကိုယ်တော်၏
ကျွန်တို့အတွက်နာကြင်သောစိတ်ရှိတော်မူပါ။-
၁၄ အကျွန်ုပ်တို့ကိုကရုဏာတော်နှင့် အလျှင်အမြန်
ရောင့်ရဲ စေတော် မူပါ။ သို့ ပြုလျှင် တသက် လုံး
၁၅ ဝမ်း မြောက် ရွှင် လန်း ကြ ပါ လိမ့် မည်။- အ
ကျွန်ုပ်တို့ကို ညှဉ်းဆဲတော်မူသော နေ့ရက်ကာ
လ၊ ဒုက္ခခံရခဲ့ပြီးသော နှစ်ပေါင်းများသည်အ
တိုင်း၊ ဝမ်းမြောက်ရသောအခွင့်ကိုပေးသနား

၁၆ တော်မူပါ။- အမှုတော်သည် ကိုယ်တော်၏ ကျွန်
ထိုအားလည်း၊ဘုန်းတော်သည် သားမြေးတို့အား
၁၇ ထင်ရှားပါစေသော။- အကျွန်ုပ်တို့၏ ဘုရား
သခင် ယေဟောဝါ ဘုရား၏ကျေးဇူးတော်သည် အ
ကျွန်ုပ်တို့အပေါ်သို့ရောက်ပါစေသော၊အကျွန်ုပ်
တို့ပြုသော အမှုတို့ကိုလည်း၊ အကျွန်ုပ်တို့ အမှီ
မြဲမြဲစေတော်မူပါ။

၉၁

၁ အမြင့်ဆုံးသော ဘုရား၏ ကွယ်ကာရာ ဌာန
တော်၌ နေသောသူသည် အနန္တတန်ခိုးရှင်၏ အ
၂ ရိပ်ကိုခိုရလိမ့်မည်။- ယေဟောဝါဘုရားသည် ငါခို
လှုံရာ၊ငါ၏ရဲတိုက်၊ငါကိုးစားသောဘုရားသခင်
ဖြစ်တော်မူသည်ဟုငါပြောဆို၏။
၃ အကယ် စင်စစ် မုဆိုး၏ ကျော့ကွင်း နှင့် ၎င်း၊
ဘေးတတ်သောအနာနှင့်၎င်း၊ သင့်ကိုကင်းလွတ်
၄ စေတော်မူမည်။- အတောင်တော် အမွေးနှင့် ဖုံး
အုပ်တော် မူ၍၊ အတောင်တော် အောက်၌ သင်
သည်လုံခြုံစွာနေရလိမ့်မည်၊သစ္စာတော်သည်
၅ သင်၏ပိုင်းလွှား ဖြစ်လိမ့်မည်။- ညဥ့်အခါဖြစ်
တတ် သော ဘေး ကို၎င်း၊ နေ့ အချိန်၌ ပြစ်သော
၆ မြားကို၎င်း- မှောင်မိုက်ထဲမှာ လည်တတ်သော
ကာလနာကို၎င်း၊ စွန်းတည့် အ ချိန် ၌ ဖျက် ဆီး
တတ်သော ဥပါတ်ကို၎င်း သင်သည် မကြောက်
၇ ရ။-သင်၏အနားမှာလူတထောင်၊သင်၏လက်ျာ
ဘက်မှာလူတသောင်းလဲသော်လည်း၊ သင့်ကိုမ
၈ ထိမခိုက်ရ။- သင်သည်ကိုယ်မျက်စိနှင့်ကြည့်၍၊
မတရား သော သူတို့၌ ရောက်ရသော အပြစ်ကို
၉ မြင်ရုံမျှသာရှိလိမ့်မည်။-ယေဟောဝါဘုရားသည်ငါ
ခိုလှုံရာဖြစ်တော်မူ၏ဟုသင်သည်ဆို၍၊ အမြင့်
၁၀ ဆုံးသောဘုရား၌နေရာကျသောကြောင့်- သင်၌
မကောင်းသော အမှု၌ရုပ် မကပ်မရောက်၊ သင့်
၁၁ နေရာသို့ဘေးဥပါတ်မချဥ်းရ။-သွားလေရာရာ
၌ သင့်ကို စောင့်ရှောက်စေခြင်းငှါ၊ ကောင်းကင်
တမန် တို့အား သင့် အမှီ မှာထား တော် မူသည်
၁၂ ဖြစ်၍- သင်၏ ခြေကို ကျောက်နှင့်မထိမခိုက်စေ
ခြင်းငှါ၊ သူတို့သည် သင့်ကိုလက်နှင့် မစချီပင့်
၁၃ ကြလိမ့်မည်။- သင်သည် ခြင်္သေ့နှင့်မြွေဆိုးအ
ပေါ်မှာ ကျော်သွား၍၊ ခြင်္သေ့ပျိုနှင့် နဂါးတို့ကို
ခြေဖြင့် နင်းလိမ့်မည်။
၁၄ သူသည်ငါ့ကိုချစ်သောကြောင့်၊ သူ့ကိုငါကယ်
နှုတ်မည်။ ငါ၏နာမကို သိသောကြောင့်၊ သူ့ကို
၁၅ ငါ ချီးမြှောက် မည်။- သူ သည် ငါ့ကို ခေါ်သော
အခါငါထူးမည်၊ဒုက္ခခံရသောအခါသူ့ထံမှာ
ငါနေ၍ ကွယ်သသပေးမည်၊ သူ၏ဘုန်းကိုလည်း
၁၆ ထင်ရှားစေမည်။- ရှည်သော အသက်နှင့်သူ့ကို
ရောင့်ရဲစေ၍၊ ငါ၏ ကယ်တင်ခြင်း ကျေးဇူး ကို
သူ့အားပြမည်။

၉၂

ဥပုသ်နေ့ အဖို့ဆာလံသီခြင်း။

၁ ယေဟောဝါဘုရား၏ကျေးဇူးတော်ကို ချီးမွမ်း၍၊
၂ အမြင့်ဆုံးသောဘုရား၏နာမတော်ကိုထောမနာ
၃ သီခြင်း ဆိုခြင်းငှါ၎င်း-စောင်းနှင့်တကွ ကြိုးဆယ်
ပင် ရှိသောတူရိယာ၊ တယော၊ မိကျောင်း တို့ကို
တီး၍၊ ကရုဏာတော်နှင့် သစ္စာတော်ကို နံနက်
အချိန်၊ ညအချိန် အစဉ် အတိုင်း ပြခြင်း ငှါ၎င်း
၄ လျောက်ပတ်ပေ၏။-အိုယေဟောဝါဘုရား၊အမှုတော်
များအားဖြင့်အကျွန်ုပ်ကို ဝမ်းမြောက်စေတော်
မူသည်ဖြစ်၍၊လက်တော်နှင့်ပြုပြင်တော်မူသော
၅ အမှုကြောင့်ရွှင်လန်းစွာသီခြင်း ဆိုပါမည်။- အို
ယေဟောဝါဘုရား၊ စီရင်တော်မူသောအမှုတို့သည်
ကြီးမား၍၊အကြံအစည်တော်လည်းအလွန်နက်
၆ လှပါ၏။- တိရစ္ဆာန် သဘောရှိသော သူမသိ၊
မိုက်သော သူ နားမလည်သော အမှုအရာဟူမူ
၇ ကား။- မတရားသောသူတို့သည်မြက်ပင်ကဲ့သို့
ပေါက်၍၊ အဓမ္မအမှုကို ပြုသောသူတို့သည်ရွှင်
လန်းကြ သော အခါ၊ ယေဟောဝါ ဖျက်ဆီးခြင်း သို့
၈ ရောက် ရ သော အကြောင်း ပေ တည်း။- ကိုယ်
တော်မူကား၊ အစဉ်အမြဲ ကြီးမြင့်တော်မူသော
၉ ယေဟောဝါဘုရားဖြစ်တော်မူ၏။- အိုယေဟောဝါဘုရား၏
ကိုယ် တော် ၏ ရန်သူ တို့ သည် ပျက်စီး ခြင်း သို့
ရောက်၍၊ အဓမ္မအမှုကိုပြုသော သူအပေါင်းတို့
၁၀ သည်အရပ်ရပ်ကွဲပြားကြလိမ့်မည်။-အကျွန်ုပ်
၏ဦးချိုကိုကား၊ကြံ့ချိုကဲ့သို့ချီးမြှောက်၍၊အကျွန်ုပ်
ကိုအသစ်သော ဆီနှင့် လိမ်းတော်မူလိမ့်မည်။-
၁၁ အကျွန်ုပ် ၏ ရန်သူ တို့ ကို အကျွန်ုပ် ရှုတ် မိ မြင်
လျက်၊ ရန်ဘက်ပြုသော လူဆိုးတို့အကြောင်း
ကို နား ကြား လျက်၊ အကျွန်ုပ် သည် အား ရ ပါ
လိမ့်မည်။
၁၂ ဖြောင့်မတ် သော သူသည် စွန်ပလွံ ပင်ကဲ့သို့
ပွင့်လန်း၍ လေဗနုန် တောင်ပေါ်မှာအာရဇ်ပင်
၁၃ ကဲ့သို့ကြီးပွားလိမ့်မည်။- ယေဟောဝါဘုရား၏အိမ်
တော်၌ စိုက် ပျိုးသော သူတို့သည် ငါတို့ ဘုရား
သခင် ၏ တန်တိုင်း တော်တွင် ပွင့်လန်း ကြလိမ့်
၁၄ မည်။- အသက်ကြီးသောကာလ၌အသီးအနှံ၊အဆီ

၁၅ ကိုအိုး၍ကြွယ်ဝစိမ်းလန်းကြလိမ့်မည်။- ထိုသို့
သောအားဖြင့် ငါ၏ကျောက်၊ ထာဝရဘုရား
သည်ဖြောင့်မတ်တော်မူ၍၊ မတရားသောအ
မှုနှင့်ကင်းလွတ်တော်မူသည်ဟု ထင်ရှား လိမ့်
သတည်း။

## ၉၃

၁ ထာဝရဘုရားသည် မင်းစိုး၍၊ ဘုန်းတော်နှင့်
တန်ဆာဆင်တော်မူ၏။ ထာဝရဘုရားသည် ထို
သို့ဝတ်ဆင်၍၊ ခွန်အားကိုခါးပန်းစည်းတော်မူ
၏။ သို့ဖြစ်၍၊ လောကဓာတ်သည် မလှုပ်မရှား
၂ မြဲခိုင်တည်လျက်ရှိ၏။- ကိုယ်တော်၏ပလ္လင်
သည်ရှေးဦးစွာမှစ၍တည်ပါ၏။ကိုယ်တော်သည်
ရှေးကာလမှစ၍ အစဉ်အမြဲ ဖြစ်တော်မူ၏။-
၃ အိုထာဝရဘုရား၊ မြစ်တို့သည်ထကြပါ၏။ မြစ်
တို့သည် ထုန်းသံကိုလွှင့်ကြပါ၏။ မြစ်တို့သည်
၄ လှိုင်းတံပိုးခတ်ကြပါ၏။- ရေများ၊ ဟုန်းသံနှင့်
တကွ သမုဒ္ဒရာ လှိုင်းတံပိုးတို့ သည် အားကြီး
သည်ထက်၊ ထာဝရဘုရားသည် မြင့်သောအ
၅ ရပ်၌ သာ၍တန်ခိုးကြီးတော်မူ၏။- သက်သေခံ
တော်မူချက် တို့သည် အလွန် မြဲမြံကြပါ၏။ အို
ထာဝရဘုရား၊ သန့်ရှင်းခြင်း ပါရမီသည် အ
စဉ်အမြဲအိမ်တော်၏အသရေဖြစ်ပါသတည်း။

## ၉၄

၁ အပြစ်ကို ပေးပိုင် တော် မူသော ဘုရားသခင်
ထာဝရဘုရား၊ အပြစ် ကို ပေးပိုင်တော် မူသော
ဘုရားသခင်၊ ရောင်ခြည်တော်ကို ထွက်တော်မူ
၂ ပါ။- မြေကြီးသားတို့ကိုတရားဆုံးဖြတ်တော်မူ
သောအရှင်၊ ထတော်မူပါ။ မာနကြီးသောသူတို့
၃ အားအကျိုးအပြစ်ကို ဆပ်ပေးတော်မူပါ။- အို
ထာဝရဘုရား၊ မတရား သော သူတို့ သည် အ
ဘယ်မျှ ကာလပတ်လုံး ဝမ်းမြောက်ကြပါလိမ့်
၄ မည်နည်း။- အဓမ္မအမှုကို ပြုသမျှသော သူတို့
သည် စော်ကား၍၊ ကြမ်းတမ်း သော စကား
တို့ပြော လျက်၊ အဘယ်မျှ ကာလ ပတ်လုံး ဝါ
၅ ကြွားကြပါလိမ့်မည်နည်း။- အိုထာဝရဘုရား၊
သူတို့သည်ကိုယ်တော်၏လူတို့ကိုနှိပ်စက်၍၊ အ
၆ မွေတော်ကို ညှဉ်းဆဲကြပါ၏။-မုဆိုးမနှင့်ဧည့်
သည်ကိုရန်၊ မိဘမရှိသော သူငယ်ကိုရန် သတ်
၇ ကြပါ၏။-သို့ရာတွင်၊ထာဝရဘုရားသည်မမြင်၊
ယာကုပ်အမျိုး၏ ဘုရားသခင်သည်မမှတ်တတ်
ဟု ဆိုကြပါ၏။
၈ ထိုမိုက်သောအလောင်းမှိုသော သူတို့၊ နားထည်
ကြလော့။ လူမိုက်တို့၊ အဘယ် ကာလ၌ ပညာ
၉ သတိကိုရကြလိမ့်မည်နည်း။- နားကိုစိုက်ထား
တော်မူသောသူသည်မကြားရသလော။ မျက်စိ
ကို ဖန် ဆင်း တော် မူသော သူ သည် မမြင်ရ အံ့
၁၀ သလော။- လူအမျိုးမျိုးတို့ကို ဆုံးမတော်မူသောသူ
သည် အပြစ် မပေးရသလော။ လူတို့အားပညာ
အတတ်ကို သွန်သင်တော်မူသောသူသည်ကိုယ်
၁၁ တိုင်ပညာအတတ်မရှိသလော။- လူတို့၏အကြံ
အစည် သည် အချည်းနှီး ဖြစ်ကြောင်းကို ထာ
ဝရဘုရားသိတော်မူ၏။
၁၂ အိုထာဝရ ဘုရား၊ မတရား သော သူတို့ အဘို့
၁၃ တွင်းတူးစဉ်အခါ၊ဒုက္ခနေ့ရက်ကာလ နှင့်လွတ်
ခြင်း ချမ်း သာကို ပေး ထံ့သောငှါ၊ ကိုယ် တော်
ဆုံးမ၍၊ တရားတော်ကိုသွန်သင်တော်မူသောသူ
၁၄ သည်မင်္ဂလာရှိပါ၏။-ထာဝရဘုရားသည်မိမိလူ
တို့ကိုမပယ်၊ အမွေတော်ကို စွန့်ပြစ်တော်မမူ။-
၁၅ တစ်ဖန်ဖြောင့်မတ်ခြင်း တရားထက်၌ စီရင်ဆုံး
ဖြတ်တော်မူ၍၊သဘောဖြောင့်သောသူအပေါင်း
တို့သည်နောက်တော်သို့လိုက်ကြပါလိမ့်မည်။
၁၆ လူဆိုး တို့ကို ဆီးတား၍ ငါ့ဘက်မှာအဘယ်
သူထမည်နည်း။မတရားသောသူတို့ကိုဆီးတား
၁၇ ၍၊ ငါ့ဘက်မှာ အဘယ်သူ နေမည်နည်း။- ထာ
ဝရဘုရားသည်ငါ့ကိုမစတော်မမူလျှင်၊ ငါ့ဝိညာဉ်
သည် ဆိတ်ညံရာ အရပ်၌ မကြာမမြင့်မှီ နေရာ
၁၈ ကျရလိမ့်မည်။-ငါ့ခြေချော်လျက်ရှိသည်ဟု၊ အ
ကျွန်ုပ်ဆိုသောအခါ၊ အိုထာဝရဘုရား၊ ကိုယ်
တော်၏ ကရုဏာသည် အကျွန်ုပ်ကို ထောက်မ
၁၉ ပါ၏။- အကျွန်ုပ်၏နှစ်လုံးထဲမှာ စိတ်ရှုပ်ခြင်း
သောအခါ၊ ကိုယ်တော်သည်သက်သာစေတော်
မူသဖြင့်၊ အကျွန်ုပ်၏ ဝိညာဉ်လည်း ရွှင်လန်းပါ
၂၀ ၏။- မတရားသောအကြံကိုမင်း၏အခွင့်နှင့်ပြု
တတ်သောအဓမ္မရာဇပလ္လင်သည်ကိုယ်တော်
၂၁ နှင့်မိဿဟာယဖွဲ့ရပါမည်လော။- ဖြောင့်မတ်
သောသူ၏ အသက်ကိုသတ်ခြင်းငှါစုဝေးကြပါ
၏။ အပြစ်မရှိသောသူကိုသေစေခြင်းငှါစီရင်ကြ
၂၂ ပါ၏။-သို့သော်လည်း၊ထာဝရဘုရားသည်ငါ၏
ခဲတိုက် ဖြစ်တော်မူ၏။ ငါ၏ ဘုရားသခင်သည်
၂၃ ငါခိုလှုံရာကျောက်ဖြစ်တော် မူ၏။- သူတို့၏အ
ပြစ်ကိုသူတို့အပေါ်သို့ ရောက် စေတော် မူမည်။
အဓမ္မ အမှုကို ပြုစဉ်တွင် ပယ်ဖြတ် တော် မူ
မည်။ ငါတို့၏ဘုရားသခင် ထာဝရဘုရားသည်
သူတို့ကိုပယ်ဖြတ်တော်မူမည်။

## ၉၅

၁ လာကြ၊ ထာဝရဘုရားအား ရွှင်လန်းစွာ သီ
ချင်းဆိုကြကုန်အံ့၊ ငါတို့သည် ကယ်တင်ခြင်း
အို့ရောက်ရာ ကျောက်ကို ကျူးဧ ကြကုန်အံ့။-
၂ ကျေးဇူးတော်ကို ချီးမွမ်းလျက် ရှေ့တော်သို့ဝင်
၍၊ ဆာလံသီချင်း ဆိုလျက်ကျူးဧသော အသံ
၃ ကိုပြုကြကုန်အံ့။-ထာဝရဘုရားသည်ကြီးမြတ်
သောဘုရား၊ ဘုရား တကာ တို့ထက် ကြီးမြတ်
၄ သော ဘုရင် ဖြစ်တော် မူ၏။- မြေကြီးနက်နဲရာ
အရပ် တို့သည် လက်တော်၌ ရှိကြ၏၊ တောင်
၅ ထိပ် တို့ကိုလည်း ပိုင်တော်မူ၏။- ပင်လယ် ကို
လည်းဖန်ဆင်း၍ ပိုင်တော်မူ၏၊ ကုန်းကိုလည်း
လက်တော်နှင့် ပြုပြင်တော်မူ၏။
၆ လာကြ၊ပြပ်ဝပ်၍ကိုးကွယ်ကြကုန်အံ့၊ငါတို့
ကိုဖန်ဆင်း တော် မူသော ထာဝရ ဘုရား၏ ရှေ့
၇ တော်၌ ဒူးထောက်ကြကုန်အံ့။- ထာဝရဘုရား
သည်ငါတို့၏ ဘုရားဖြစ်တော် မူ၏၊ ငါတို့သည်
လည်း၊ အထံ တော်၌ ကျက်စားသောသူ၊ လက်
၈ တော်အောက်၌နေသောသိုးစုဖြစ်ကြ၏။-ယနေ့
တွင်သင် တို့သည် ဗျာဒိတ် တော် အသံကို ကြား
၉ လျက်မိုင်မာသောစိတ်နှစ်လုံးမရှိကြနှင့်။- သင်
တို့အဘများသည် အနှစ်လေးဆယ်ပတ်လုံးငါကို
အနှိုးနှိုးစုံစမ်း၍၊ငါ၏အမှုတို့ကိုမြင်ရသော
တောတွင်၊ ငါကို ဆန့်ကျင်ဘက် ပြု၍၊ စုံစမ်းရာ
၁၀ ကာလ၌ရှိသကဲ့သို့မရှိစေကြနှင့်။- ထိုလူမျိုးကို
ငါ ရွံသည်ဖြစ်၍၊ သူတို့သည်စိတ်သဘောမှား
ယွင်းတတ်သော လူမျိုးဖြစ်ကြ၏၊ ငါ၏ အလေ့
၁၁ အထတို့ကို နားမလည်ကြဟု ငါဆိုရ၏။- ထို
ကြောင့်သူတို့သည် ငါ၏ချမ်းသာထဲသို့ မဝင်ရ
ကြဟု၊အမျက်ထွက်၍ငါကျိန်ဆို၏။

## ၉၆

၁ ထာဝရ ဘုရားအား အသစ်သော သီချင်းကို
ဆိုကြလော့၊ မြေကြီးသားအပေါင်းတို့၊ထာဝရ
၂ ဘုရားအားသီချင်းဆိုကြလော့။-ထာဝရဘုရား
အားသီချင်းဆို၍၊နာမတော်ကိုကောင်းကြီးပေး
ကြလော့။ကယ်တင်တော်မူခြင်းတရားကိုတနေ့
၃ ထက်တနေ့ညွှန်ကြားကြလော့၊-ဘုန်းတော်ကို
တပါးအမျိုးသားတို့၌၎င်း၊ အံ့ဩဖွယ် သောအမှု
တော်တို့ကိုခပ်သိမ်းသောလူမျိုးတို့၌၎င်း ဖော်ပြ
၄ ကြလော့။- ထာဝရဘုရားသည် ကြီးမြတ်၍
အလွန်ချီးမွမ်းဖွယ်ဖြစ်တော်မူ၏၊ဘုရားတကာ
၅ တို့ထက်ကြောက်ရွံ့ဖွယ် ဖြစ်တော်မူ၏။- တပါး
အမျိုးသားတို့၏ ဘုရားရှိသမျှတို့သည်အချည်း
နှီးသက်သက်ဖြစ်ကြ၏၊ ထာဝရဘုရားမူကား
၆ မိုဃ်းကောင်းကင်ကိုဖန်ဆင်းတော်မူ၏။- ဘုန်း
တန်ခိုးအာနုဘော်သည်ရှေ့တော်၌ရှိ၏။အစွမ်း
သတ္တိနှင့် ဂုဏ်အသရေလည်း သန့်ရှင်းရာဌာန
တော်၌ရှိ၏။
၇ လူ အမျိုးမျိုးတို့၊ ထာဝရ ဘုရားသည် ဘုန်း
တန်ခိုးအစွမ်းသတ္တိ ရှိတော်မူသည်ဟု ဝန်ခံကြ
၈ လော့။ရှိတော်မူသည်ဟုဝန်ခံကြလော့။-ထာဝရ
ဘုရား၏နာမတော်သည် ဘုန်းကြီးတော်မူသည်
ဟုဝန်ခံ ကြလော့၊ ပူဇော် သက္ကာကို ဆောင်နဲ့
၉ လျက်တန်တိုင်းတော်သို့ဝင်ကြလော့။-သန့်ရှင်း
သောတန်ဆာကိုဆင်၍၊ ထာဝရဘုရားကို ကိုး
ကွယ်ကြလော့၊ မြေကြီးသားအပေါင်းတို့၊ ရှေ့
၁၀ တော်၌ ကြောက်ရွံ့ခြင်း ရှိကြလော့။- ထာဝရ
ဘုရားစိုးစံတော်မူသည်ဟုတပါးအမျိုးသားတို့
တွင်ဟောပြောကြလော့၊ လောကဓာတ်သည်မ
လှုပ်ရှားနိုင်အောင် မြဲမြံစွာတည်လိမ့်မည်၊ လူ
များကို ဖြောင့်မတ်စွာ တရားစီရင်တော် မူလိမ့်
၁၁ မည်။- ကောင်းကင်သည် ဝမ်းမြောက်ခြင်းရှိ
စေ၊ မြေကြီး သည်လည်း ရွှင်လန်းခြင်း ရှိစေ၊
ပင်လယ် နှင့် ပင်လယ်တန်ဆာသည် အသံဗလ
၁၂ ကိုပြုစေ။- လယ်ပြင်နှင့်သယ်ပြင်၌ရှိသမျှသည်
လည်း ဝမ်းမြောက်စေ၊ ထိုအခါတော၌ ရှိသမျှ
သော အပင် တို့ သည် ထာဝရ ဘုရား ရှေ့တော်
၁၃ တွင် ရွှင်လန်းစွာ သီချင်း ဆိုကြလိမ့်မည်။- အ
ကြောင်းမူကား၊ကိုယ်တော်သည်ကြွလာတော်
မူ၏၊ မြေကြီးသားတို့ကို တရားစီရင်ခြင်းငှါ ကြွ
လာတော်မူ၏၊ လောကသားတို့ကို ဖြောင့်မတ်
ခြင်းတရားနှင့်၎င်း၊လူများကိုသစ္စာတော်နှင့်၎င်း
စီရင်ဆုံးဖြတ်တော်မူလတ္တံ့။

## ၉၇

၁ ထာဝရဘုရားသည်စိုးစံတော်မူ၏၊ မြေကြီး
သည်ဝမ်းမြောက်၍၊ ကျွန်းများတို့သည်လည်း
၂ ရွှင်လန်းကြစေ။- မိုဃ်းတိမ်နှင့် မှောင်မိုက်တို့
သည်ထာဝရဘုရား၏ ပတ်ဝန်းကျင်တို့၌ ရှိကြ
၏၊ တရားသဖြင့်စီရင်ခြင်း၊ ဖြောင့်မတ်စွာ ဆုံး
ဖြတ်ခြင်းသည် ပလ္လင်တော်၏ တည်ရာဖြစ်၏။-
၃ မီးသည်ရှေ့တော်၌သွား၍၊ရန်သူတို့ကိုအဝှာစွဲ
၄ လှည့်လောင်လေ၏။- လျှပ်စစ်တော်သည်လော
ကဓာတ်ကိုလင်းစေ၏၊ မြေကြီးသည်မြင်၍တုန်
၅ လှုပ်၏။- ထာဝရဘုရားရှေ့၊ မြေကြီးတပြင်လုံး

ကို အမှီး ရတော် မူသော အရှင်၏ ရှေ့ တော်၌၊ တောင်တို့သည် ဖယောင်း ကဲ့သို့ အရည် ဖြစ်ကြ
၆ ၏။ ကြောင့် မတ် တော် မူ ခြင်း အ ကြောင်း ကို ကောင်းကင်တို့သည်ထင်ရှားစွာပြ၍၊ လူများအ
၇ ပေါင်း၊ ထိုသည် ဘုန်းတော်ကို မြင်ရကြ၏။— ရုပ်တုဆင်းတုကိုဝတ်ပြုသောသူ၊ အချည်းနှီးသက်သက်သော အရာ၌ ဝါကြွားသော သူအပေါင်းတို့သည်အရှက်ကွဲခြင်းရှိကြစေ။ဘုရားအပေါင်းတို့၊ ထာဝရဘုရားကို ပြပ်ဝပ်ကိုးကွယ်ကြလော့။
၈ အိုထာဝရဘုရား၊ ကိုယ်တော်သည်တရားစီရင်တော်မူချက်တို့အကြောင်းကြောင့်၊ ဇိအုန်မြို့သည်ကြား၍ ရွှင်ယန်းပါ၏၊ ယုဒသတို့သမီးတို့
၉ သည်၊ဝမ်းမြောက်ကြပါ၏။—အိုထာဝရဘုရား၊ ကိုယ်တော်သည် မြေကြီးသားအပေါင်းတို့ထက် ကြီးမြင့် တော်မူ၏၊ ဘုရား တကာ တို့ထက် အ
၁၀ လွန်ချီးမြှောက်ခြင်းရှိတော်မူ၏။-ထာဝရဘုရားကို ချစ်သော သူတို့၊ မကောင်း သော အမှုကို ရွံရှာ ကြ လော့၊ ကိုယ်တော် ၏ သန့်ရှင်း သူတို့၏ အသက် ဝိညာဉ်ကို စောင့်မ တော်မူ ၍၊ မတရား သော သူတို့၏ လက်မှလည်း ကယ်နှုတ်တော် မူ
၁၁ ၏။— အလင်း သည် တရား သော သူ အဖို့၊ ဝမ်း မြောက် ခြင်းသည် သဘော ဖြောင့် သော သူတို့
၁၂ အဖို့ ပျိုး ကြဲ လျက် ရှိ ၏။— ဖြောင့်မတ် သော သူ တို့၊ထာဝရဘုရားကို အမှီ ပြု၍ ဝမ်း မြောက် ကြ လော့၊ သန့်ရှင်းသော နာမတော်ကို ချီးမွမ်းကြ လော့။

၉၈

၁ ထာဝရ ဘုရားအား အသစ်သော သီခြင်း ကို ဆိုကြလော့၊ အံ့ဩဖွယ်သောအမှုတို့ကိုပြုတော်မူပြီ၊ လက်ျာလက်တော်နှင့် သန့်ရှင်းသောလက်ရုံးတော်သည် ကိုယ်တော်အဖို့ ကယ်တင် ခြင်း အမှုကို ပြုလေပြီ၊— ထာဝရဘုရားသည် ကယ်တင် တော် မူခြင်း ကျေး ဇူး ကို ထင် ရှား စေ၍၊ ဖြောင့်မတ်တော်မူခြင်း တရားကိုလည်း တပါး
၂ အမျိုးသားတို့အားဖော်ပြတော်မူပြီ၊— ဣသရေလ အမျိုးသား တို့၌ ကရုဏာ တော်နှင့် သစ္စာ တော် ကို အောင်း မေ့ တော် မူပြီ၊ ငါ တို့ ဘုရား သခင် ၏ ကယ် တင် တော် မူ ခြင်း ကျေးဇူး ကို မြေကြီး စွန်း အပေါင်း တို့ သည် မြင်ရ ကြပြီ၊—
၃ မြေကြီးသား အပေါင်းတို့၊ ထာဝရ ဘုရားအား ကျေးကြော် ကြလော့၊ အသံ ဗလံကို ပြု၍ ရွှင် ယန်း စွာ သီခြင်း ဆိုလျက် ချီးမွမ်း ကြ လော့၊—
၄ စောင်းတီး၍ထာဝရဘုရားအား သီချင်းဆိုကြလော့၊စောင်းတီး၍ တူရိယာသံကိုပြုကြလော့၊—
၅ တံပိုးနှဲခရာကိုမှုတ်၍၊ရှင်ဘုရင်တည်းဟူသော ထာဝရဘုရား၏ရှေ့တော်၌ကျေးကြော်ကြလော့။—
၆ ထာဝရဘုရား၏ရှေ့တော်၌၊ ပင်လယ်နှင့်ပင်လယ်တန်ဆာသည်အသံဗလံကိုပြုစေ၊လောကဓာတ်
၇ နှင့်လောကသားတို့သည် ထိုနည်းတူ၊— မြစ်တို့သည်လက် ခုတ်တီး၍၊ တောင်ရိုးသမျှ ထိုသည်
၈ ထည်း ရွှင်ယန်းကြစေ၊—အကြောင်းမူကား၊မြေကြီးသားတို့ကိုတရားစီရင်ခြင်းငှါ ကြွလာတော်မူ၏၊ လောကသားတို့ကိုဖြောင့်မတ်စွာစီရင်၍ လူများကိုထုတ်မှန်ခြင်းတရားအတိုင်းစီရင်ဆုံဖြတ်တော်မူလတ္တံ့။

၉၉

၁ ထာဝရဘုရားသည်မင်းစံတော်မူ၏၊လူများတုန်လှုပ်ခြင်းရှိကြစေ၊ခေရုဗိမ်တွင်ကျိန်းဝပ်တော်မူ၏၊မြေကြီးသည်လှုပ်ရှားခြင်းရှိစေ၊
၂ ထာဝရ ဘုရားသည် ဇိအုန်တောင်မှာ ကြီးမြတ်တော်မူ၏၊ လူများအပေါင်းတို့ထက် ချီးမြှောက်
၃ ခြင်းရှိတော်မူ၏။— ကြီးမြတ်၍ ကြောက်ရွံ့ဖွယ်သောနာမတော်ကိုချီးမွမ်းကြစေ၊ အကြောင်းမူကား၊နာမတော်သည်သန့်ရှင်းခြင်းရှိသတည်း။
၄ တရား ကို နှစ်သက် သော ရှင် ဘုရင်၏ တန် ခိုး တော်ကို ချီးမွမ်း ကြစေ၊ ကိုယ်တော်သည် မှန်သောစီရင်ခြင်းကို တည်စေတော်မူ၏၊ ယာကုပ်အမျိုး၌ တရားသဖြင့် ပြု၍၊ ဖြောင့် မတ်စွာ ဆုံး
၅ ဖြတ် တော် မူ ၏။— ငါ တို့ ဘုရား သခင် ထာဝရ ဘုရားကို ချီးမြှောက် ကြလော့၊ ခြေတော် တင်ရာခုံအောက်၌ ပြပ်ဝပ် ကိုးကွယ် ကြလော့၊ အကြောင်း မူ ကား၊ ကိုယ် တော် သည် သန့် ရှင်း တော်မူသတည်း။
၆ ယဇ်ပရောဟိတ် မောရှေနှင့် အာရုန်၊ နာမတော်ကိုပဌနာပြုသောသူရှင်မွေလ၊ ဤသူတို့သည် ထာဝရဘုရားကိုပဌနာပြု၍၊ ကိုယ်တော်သည်
၇ ထူးတော်မူ၏။-သူတို့အားမိုဃ်းတိမ်တိုင်ထဲကမိန့်တော် မူ၏၊ သူတို့ သည် လည်း၊ သက်သေခံတော်မူချက်များကိုငှင်၊စီရင်ထုံးဖွဲ့တော်မူချက်
၈ များကိုငှင် စောင့်ရှောက်ကြ၏၊- အကျွန်ုပ်တို့၏ဘုရားသခင် ထာဝရဘုရား၊ ကိုယ်တော်သည် သူတို့ကိုထူးတော်မူ၏၊ သူတို့အမှုကြောင့်အပြစ်ပေးသော်လည်း၊ သူတို့ကိုသည်းခံသော ဘုရား
၉ ဖြစ်တော် မူ၏။- ငါ တို့၏ ဘုရား သခင် ထာဝရ

ဘုရားကို ချီးမြွောက်ကြလော့၊ သန့်ရှင်းသော
တောင်တော်မှာ ပြပ်ဝပ်ကိုးကွယ်ကြလော့၊ အ
ကြောင်းမူကား၊ ငါတို့၏ ဘုရား သခင် ထာဝရ
ဘုရားသည်သန့်ရှင်းတော်မူသတည်း။

၁၀၀

၁ မြေ ကြီး သား အပေါင်း တို့၊ ထာဝရ ဘုရား
၂ အားကြွေးကြော် ကြလော့။- ထာဝရဘုရား၏
အမှု တော်ကို ဝမ်း မြောက်စွာ ဆောင်ရွက် ကြ
လော့၊ ရွှင်လန်းစွာသီခြင်းဆိုလျက်၊ အထံတော်
၃ သို့ ဝင်ကြ လော့။- ထာဝရ ဘုရားသည် ဘုရား
သခင်ဖြစ်တော်မူသည်ဟုသိမှတ်ကြလော့။ ထာ
ဝရဘုရားသည် ငါတို့ကိုဖန်ဆင်းတော်မူ၍၊ ငါ
တို့၏ အရှင် ဖြစ်တော် မူ၏။ ငါ တို့ သည်လည်း၊
ထာဝရ ဘုရား၏ လူ ဖြစ်ကြ၏၊ အထံ တော်၌
၄ ကျက်စားသောသိုးစုလည်းဖြစ်ကြ၏။ ကျေးဇူး
တော် ကြီးပါသည်ဟု ဝန်ခံလျက်၊ တံခါး တော်
ထိုကိုရင်၊ ဂုဏ်တော်ကိုချီးမွမ်းလျက်တန်တိုင်း
တော်တို့ကိုရင် ဝင်ကြလော့၊ ကျေးဇူး တော်ကို
၅ ချီး မွမ်း ၍ နာမ တော် ကို ကောင်း ကြီး ပေး ကြ
လော့။-အကြောင်းမူကား၊ ထာဝရဘုရားသည်
ကောင်းမြတ်တော်မူ၏။ ကရုဏာတော်သည်အ
စဉ်အမြဲရှိ၍၊ သစ္စာတော်သည်ကာလအဆက်
ဆက်တည်လေသတည်း။

၁၀၁

၁ ငါသည် သနားစုံမက်ခြင်း၊ တရားသဖြင့်စီ
ရင်ခြင်းကို အကြောင်းပြု၍ သီခြင်း ဆိုပါမည်၊
အိုထာဝရဘုရား၊ ရှေ့တော်၌သီခြင်းဆိုပါမည်။-
၂ စုံလင်သောတရားအတိုင်း ပညာသတိနှင့်ကျင့်
ပါ မည်။ ကိုယ် တော် သည် အကျွန်ုပ် ဆီသို့ အ
ဘယ်တာလမှကြွလာတော်မူမည်နည်း။ ကိုယ်
အိမ်တွင် သန့်ရှင်းသော စိတ်နှစ်လုံးနှင့် ကျင့်ပါ
၃ မည်။- အဓမ္မအမှုအရာကို မျက်မှောက်ပြု[illegible]ပါ။
ထမ်းတွဲသောသူ၏အမှုကို ရွံရှာသည်ဖြစ်၍၊ ငါ
၄ ၌မရှိမကပ်ရ။- သဘောကောက် သောသူသည်
ငါ့ထံမှထွက်သွားရမည်။ မကောင်းသောသူနှင့်
၅ ငါမပေါင်းဖော်။- မိမိအိမ်နီးချင်း၏ အသရေကို
တိတ်ဆိတ်စွာဖျက်သောသူကို ငါပယ်ဖြတ်မည်။
မျက်နှာ ထောင် လွှား၍ စိတ် မြင့် သော သူကို
၆ သည်းမခံ။- သစ္စာရှိသော ပြည်သား တို့ သည်
ငါ့ထံမှာနေမည် အကြောင်း၊ သူတို့ကိုငါကြည့်ရှု
မည်။ စုံလင် သော တရား၌ ကျင်[illegible]
၇ သည် ငါ၏ အမှုကို ဆောင် ရွက် ရမည်။- လှည့်
ဖြားတတ်သောသူမူကား၊ ငါ့အိမ်၌မနေရ။ မုသာ
စကား ကို ပြော တတ်သော သူ သည်လည်း၊ ငါ
၈ မျက်မှောက်၌အခွင့်မရှိရ။- ဆိုးသောအမှုကိုပြု
သောသူအပေါင်းတို့ကိုထာဝရဘုရား၏မြို့တော်
မှပယ်ဖြတ်မည်အကြောင်း၊ မတရားသောပြည်
သားရှိသမျှ တို့ကို စောစော ဖျက်ဆီး လေမည်သ
တည်း။

၁၀၂

ဆင်းရဲသောသူသည်ညှိုးငယ်သောစိတ်နှင့်
ထာဝရဘုရားရှေ့တော်၌ညည်းတွား
မြည်တမ်း၍ပြုသောပဌနာ။

၁ အိုထာဝရဘုရား၊ အကျွန်ုပ်၏ ပဌနာကို နား
ထောင်တော် မူပါ။ အကျွန်ုပ် အော်ဟစ်ခြင်း အ
၂ သံသည်ရှေ့တော်သို့ ရောက်ပါစေသော။- ဒုက္ခ
ရောက်သည်ကာလ၌မျက်နှာတော်ကိုအကျွန်ုပ်
မှလွှဲတော်မမူပါနှင့်။ အကျွန်ုပ် ခေါ်သော အခါ
နားထောင်တော်မူပါ၊ အလျင်အမြန်ထူးတော်မူ
၃ ပါ။-အကြောင်းမူကား၊ အကျွန်ုပ်၏နေ့ရက်ကာ
လသည်မီးခိုးကဲ့သို့ ကုန်တတ်ပါ၏။ အကျွန်ုပ်၏
၄ အရိုးတို့သည်မီးဖိုကဲ့သို့လောင်ကြပါ၏။- အ
ကျွန်ုပ်၏ နှလုံးသည် မြက်ပင် ကဲ့သို့ အထိအ
ခိုက်ခံရ၍၊ ညှိုးနွမ်းလျက် ရှိပါ၏။ အစာစား
၅ ခြင်းကိစ္စကို ပင်မေ့လျော့တတ် ပါ၏။- ကိုယ်
ညည်းတွားခြင်းအသံကြောင့်၊ အကျွန်ုပ်၏အရိုး
၆ တို့သည်အရေ၌ကပ်လျက်ရှိကြပါ၏။-အကျွန်ုပ်
သည်လွင်ပြင်၌နေသောဝံပိုကဲ့သို့ရင်၊ တော၌နေ
၇ သောဇီးကွက်ကဲ့သို့ရင်ဖြစ်ပါ၏။-အကျွန်ုပ်သည်
အိမ်မိုးပေါ်မှာ တကောင်တည်း နေရသောငှက်
၈ ကဲ့သို့ဖြစ်၍ စောင့်လျက် နေရပါ၏။- အကျွန်ုပ်
ရန်သူတို့သည်တနေ့လုံးကဲ့ရဲ့ကြပါ၏။အကျွန်ုပ်
တဖက်၌ ဒေါ်ကားသောသူတို့သည်အကျွန်ုပ်ကို
၉ ကိုင်၍ ကျိန်ဆို တတ်ကြ ပါ၏။- စိတ်တော် မ
၁၀ ပြေ၊ အမျက် ထွက်တော် မူ သော ကြောင့်၊ အ
ကျွန်ုပ်သည်ပြာကိုမုန့်ကဲ့သို့စားရပါ၏။ သောက်
သောအခါထည်း၊ မျက်ရည် ရော၍ သောက်ရ
ပါ၏။ ကိုယ်တော်သည် အကျွန်ုပ်ကိုချီးမြှောက်
၁၁ ပြီးမှ အောက်သို့ ချတော်မူပြီ။- အကျွန်ုပ်၏နေ့
ရက်တို့သည် ရှည်လျားသော အရိပ်ကဲ့သို့ဖြစ်
၍၊ မြက်ပင်ကဲ့သို့အကျွန်ုပ် ညှိုးနွမ်းပါ၏။
၁၂ အိုထာဝရဘုရား၊ ကိုယ်တော်သည် နိစ္စထာ
ဝရဖြစ်တော်မူ၏။ နာမတော်သည်ကာလအဆင့်
၁၃ အဆက်တည်ပါ၏။- ထတော်မူပါ။ ဇိအုန်မြို့ကို

သနားတော်မူပါ၊ ဇိအုန်မြို့ကို ကယ်မ သနားရ
သော အချိန်၊ ချိန်းချက် တော် မူ သော အ ချိန်
၁၄ ရောက်ပါပြီ။- ကိုယ်တော်၏ကျွန်တို့သည်ထိုမြို့
၏ ကျောက်ခဲတို့ကို ပင်နှစ်သက်၍၊ သူ၏မြေမှုန့်
၁၅ ကို ပင် နှမြော ကြ ပါ၏။- တပါးအမျိုးသားတို့
သည်ထာဝရဘုရား၏နာမတော်ကိုငှင်၊လောကီ
ရှင်ဘုရင် အပေါင်းတို့သည် ဘုန်းတော်ကို ၎င်
၁၆ ကြောက်ရွံ့ကြ ပါလိမ့် မည်။- ထာဝရ ဘုရား
သည်ဇိအုန်မြို့ကိုတည်ထောင်၍၊ဘုန်းတော်နှင့်
၁၇ တကွ ထင်ရှားတော်မူလိမ့်မည်။- ကိုးကွယ်ရာ
မဲ့သောသူတို့ဆုတောင်းခြင်းအကြောင်းကို မထီ
မဲ့မြင်မပြု၊ သူတို့၏ ပဌနာကို မှတ်တော် မူလိမ့်
မည်။- ထိုအကြောင်းအရာကို နောက်ဖြစ်လတံ့
သောလူမျိုးအဘို့ ရေးမှတ်ရမည်၊ ပြုပြင်တော်မူ
ထတံ့သောလူတို့သည်ထာဝရဘုရားကိုချီးမွမ်း
၁၈-၂၂ ကြလိမ့်မည်။- ချုပ်ထားသောသူ၏ ညည်း
တွားသံကိုနားထောင်ခြင်း၄ါငှင်၊ သေရမည့်သူ
တို့ကို လွှတ်ခြင်း၄ါငှင်၊ အတိုင်းတိုင်း အပြည်
ပြည်သောလူမျိုးတို့သည် ထာဝရဘုရား၏ဝတ်
ကိုပြုလျှက် စုဝေးကြသောအခါ၊ ဇိအုန်တောင်
ပေါ်၊ ယေရုရှလင် မြို့၌၊ ထာဝရ ဘုရား၏ နာမ
တော် နှင့် ဂုဏ် ကျေး ဇူး တော် ကို ထင် ရှား စေ
ခြင်း၄ါငှင်၊ သန့်ရှင်းရာ ဌာနတော်အထွဋ်က ငုံ့
ကြည့် တော်မူ၍၊ ကောင်းကင် ပေါ်က ထာဝရ
ဘုရားသည်မြေကြီးကိုရှုမှတ်တော်မူ၏။
၂၃ ထမ်းခရီး၌ ငါ၏အစွမ်းကို လျော့စေ ခြင်း၄ါ
ငှင်၊ ငါ၏နေ့ရက် ကာလကို တိုစေခြင်း၄ါငှင် ပြု
၂၄ တော်မူသောအခါ- ငါလျှောက်သောအချက်ဟူ
မူကား၊ အိုအကျွန်ုပ်၏ ဘုရား၊ အကျွန်ုပ်ကို အ
သက်ပိုင်းစည်ပင်ပယ်ရှင်းတော်မမူပါနှင့်၊ ကိုယ်
တော်၏ နှစ်တို့သည် ကာလ အစဉ် အဆက် ခြ
၂၅ ကြပါ၏။- ကိုယ်တော်သည်ရှေးဦးစွာ၌မြေကြီး
ကို တည် တော် မူ ပြီ၊ မိုဃ်း ကောင်း ကင် သည်
လည်း လက်တော်နှင့် ဖန်ဆင်းသော အရာဖြစ်
၂၆ ပါ၏။- ထိုအရာတို့သည်ပျက်စီးခြင်းသို့ ရောက်
သော်လည်း၊ ကိုယ်တော်သည်အမြဲတည်တော်
မူ၏၊ ထို အရာ ရှိ သမျှ တို့ သည် အဝတ် ကဲ့သို့
ဟောင်းနွမ်းခြင်းသို့ရောက်၍၊ကိုယ်တော်သည်
ဝတ်လုံကိုလဲသကဲ့သို့လဲတော်မူသဖြင့်၊ ပြောင်း
၂၇ လဲခြင်း ရှိ ကြ သော် လည်း၊- ကိုယ် တော် သည်
ပြောင်းလဲ တော်မမူပါ၊ အသက်တော်လည်း မ
၂၈ ကုန်မဆုံးရပါ၊-ကိုယ်တော်ကျွန်တို့၏သားမြေး
တို့သည်တည်၍၊အမျိုးအနွယ်သည်လည်းရှေ့
တော်၌မြဲမြံပါလိမ့်မည်။

၁၀၃

၁ အိုငါ့စိတ်ဝိညာဉ်၊ ထာဝရ ဘုရားကို ကောင်းကြီး
ပေး လော့၊ ငါ၏ အထဲမှာ ရှိသမျှတို့၊ သန့် ရှင်း
သော နာမတော်ကို ကောင်းကြီး ပေးကြလော့။-
၂ အိုငါ့စိတ်ဝိညာဉ်၊ ထာဝရဘုရားကိုကောင်းကြီးပေး
လော့၊ ကျေးဇူးတော် အပေါင်းကို မမေ့လျော့
၃ နှင့်။- သင်၏ အပြစ်အလုံးစုံတို့ကို ဖြေလွှတ်၍၊
သင်၏ အနာရောဂါရှိသမျှတို့ကိုလည်း ပျောက်
၄ စေတော်မူ၏။- သင်၏အသက်ကို ပျက်စီးခြင်း
ထဲကရွေး၍ကျေးဇူးတော်၊ ကရုဏာတော်များ
၅ နှင့်သင်၏ ခေါင်းကိုပတ်ရစ်တော်မူ၏။- သင့်ကို
အသက်ကြီးစည်၊ ကောင်းသောအရာနှင့်ရောင့်
ရဲစေတော်မူသဖြင့်၊သင်၏အရွယ်သည်ရွှေလင်း
တ၏အရွယ်ကဲ့သို့ပြုပြင်ခြင်းရှိ၏။
၆ ထာဝရဘုရားသည် ညှဉ်းဆဲခြင်းကို ခံရသ
မျှသော သူတို့အဘို့ တရားစီရင်၍ စီရင်ဆုံးဖြတ်
၇ တော်မူ၏။- ထာသာ၁စ်လမ်းတော်တို့ကိုမောရှေ၌
ငှင်၊ စီရင်တော်မူသောအမှုအရာတို့ကို ဣသရေ
၈ လ အမျိုးသားတို့၌ငှင် ပြတော် မူပြီ။- ထာဝရ
ဘုရားသည်သနားတတ်သောသဘော၊ကျေးဇူး
ပြု တတ်သော သဘော၊ စိတ်ရှည်၍၊ ကရုဏာ
၉ ကြွယ်ဝသော သဘော ရှိတော်မူ၏။- အစဉ်မ
ပြတ်အပြစ်တင်တော်မူသည်မဟုတ်၊ အမျက်ကို
၁၀ အမြဲထားတော်မူသည်မဟုတ်။- ငါတို့ ပြစ်မှား
ခြင်းနှင့်အလျောက်ငါတို့၌ပြုတော်မမူတတ်၊ငါ
တို့၌ဒုစရိုက်ရှိသည်အတိုင်းအပြစ်ကိုပေးတော်
၁၁ မမူတတ်။- မြေကြီးပေါ်တွင်ကောင်းကင်အမြင့်
ရှိသည် အတိုင်း၊ ထာဝရ ဘုရားကို ကြောက်ရွံ့
သောသူတို့၌ ကရုဏာတော်သည် အားကြီးပေ
၁၂ ၏။- အရှေ့မျက်နှာစွန်းသည်အနောက်မျက်နှာ
စွန်းနှင့် ဝေးသည်အတိုင်း၊ ငါတို့အပြစ်များကို
၁၃ ငါတို့နှင့် ဝေးစေတော် မူ၏။- အဘသည် သားတို့
ကို သနားစုံမက်သည် နည်းတူ၊ ထာဝရ ဘုရား
သည် ကြောက် ရွံ့ သော သူတို့ကို သနား စုံမက်
၁၄ တော်မူ၏။- အကြောင်းမူကား၊ငါတို့ကိုယ်ခန္ဓာ
ကိုသိတော်မူ၏၊ ငါတို့သည်မြေမှုန့်ဖြစ် ကြောင်း
၁၅ ကိုအောင်းမေ့ တော်မူ၏။- လူထို၏ နေ့ရက်ကာ
လသည်မြက်ပင်ကဲ့သို့ဖြစ်၏၊လူသည်လယ်ပြင်
၁၆ ၌ရှိသော ပန်းပွင့် ကဲ့သို့ ပွင့်တတ်၏။- လေသည်
လွန်သွားလျှင်အပွင့်ပျောက်၍၊သူ၏နေရာသည်

၁၇ နေ့ဘယ်တခန် သူကိုမသိရာ။- ထာဝရ ဘုရား၏
ကရုဏာတော်မူကား၊ကြောက်ရွံ့သောသူတို့အ
ပေါ်သို့ကာလအစဉ်အဆက် သက်ရောက်တတ်
၁၈ ၏။- သစ္စာတော်ကို စောင့်၍ ပညတ် တော်တို့ကို
ကျင့်ခြင်းငှါ၊သတိပြုသောသူတို့၏သားစဉ်မြေး
ဆက်တို့သည် ကုသလ တရား တော်နှင့် ဆိုင်ရ
ကြ၏။
၁၉ ထာဝရဘုရားသည် ပလ္လင်တော်ကို ကောင်း
ကင်ဘုံ၌ တည်တော် မူ၍၊ အာဏာ တော်သည်
၂၀ ခပ်သိမ်းသော အရပ် တို့ကို နိုင်ငံ၏။- တန်ခိုး
ကြီး၍ နှုတ်ကပတ် တော် အသံ ကို နားထောင်
လျက်၊ အမိန့် တော် အတိုင်း ဆောင်ရွက် သော
ကောင်းကင် တမန် တော်တို့၊ ထာဝရ ဘုရား ကို
၂၁ ကောင်းကြီးပေးကြလော့။- အလိုတော်သို့လိုက်
သော အမှု တော် ထမ်း၊ ကောင်း ကင် ဗိုလ် ခြေ
တော်အပေါင်းတို့၊ထာဝရဘုရားကိုကောင်းကြီး
၂၂ ပေးကြလော့။- နိုင်ငံတော် အရပ်ရပ်၌ စီရင်ဖန်
ဆင်းတော်မူသမျှတို့၊ ထာဝရဘုရားကို ကောင်း
ကြီးပေးကြလော့။ အိုငါ့ဝိညာဉ်၊ ထာဝရ ဘုရား
ကိုကောင်းကြီးပေးလော့။

၁၀၄

၁ အို ငါ့ဝိညာဉ်၊ ထာဝရ ဘုရားကို ကောင်းကြီး
ပေး လော့။ အ ကျွန်ုပ် ၏ ဘုရား သခင် ထာဝရ
ဘုရား၊ ကိုယ်တော်သည် အလွန်ကြီးမြတ်တော်
မူ၏။ ဘုန်းတန်ခိုး အာနုဘော်နှင့် တန်ဆာ ဆင်
၂ တော်မူ၏။-အဝတ်နှင့်ခြုံသကဲ့သို့၊ အလင်းနှင့်
ကိုယ်တော်ကိုခြုံတော်မူထသော၊မိုဃ်းကောင်း
ကင်ကို ရှက် နှာ ကြက် ကဲ့သို့ ကြက် တော် မူထ
၃ သော၊-နေတော်မူရာအထက်ခန်း၊ အမြစ်ကိုရေ
၌ တည်တော် မူ ထသော၊ မိုဃ်းတိမ်ရထား ကို
စီး၍၊ လေအတောင် တို့ဖြင့်ကြွသွား တော် မူထ
၄ သော၊- မိမိတမန် တို့ကိုလေကဲ့သို့၎င်း၊ မိမိအစေ
အပါ တို့ကို မီးလျှံ ကဲ့သို့ ၎င်း ဖြစ် စေ တော် မူထ
၅ သော၊- မြေကြီး၊အမြစ်ကို ကာလ အစဉ် အမြဲမ
ရွေ့မလှုပ်စေခြင်းငှါ၊ တည်တော်မူသောဘုရား
ပေတည်း။
၆ ကိုယ်တော်သည် မြေကြီးကိုအဝတ်နှင့်ဖုံးသ
ကဲ့သို့၊ ပင်လယ်နှင့် ဖုံးတော် မူ၍၊ ရေ တို့သည်
၇ တောင်များ၊ အပေါ်မှာ ရပ် နေကြ ပါ၏။- တခန်
ဆုံးတော်မူ၍ သူတို့သည် ပြေးကြပါ၏။ မိုဃ်း
ခြိမ်းတော် မူသံကို ကြား၍၊ အလျင် အမြန်ပြန်
၈ သွား ကြပါ၏။- တောင် တို့ သည် တက်လျက်၊
မြို့ င် တို့သည်ဆင်းလျက်၊ သူတို့တို့ ခွဲခန့်တော်မူ
၉ သောအရပ်သို့ရောက်ကြပါ၏။- ရေတို့သည်ပြန်
လာ၍မြေကြီးကိုမလွှမ်းမိုးစေခြင်းငှါ၊ မကျော်
ရသောနယ်စပ်ကိုပိုင်းခြားတော်မူ၏။
၁၀ ထာဝရဘုရားသည် မြို့ င် များထဲသို့ စမ်းရေ
ကို ထွတ်တော်မူ၍၊ ရေသည် တောင်တို့တွင် စီး
၁၁ လျက်- မြေတိရိစ္ဆာန်ဥပေါင်းတို့အားသောက်
ရသော အခွင့်ကိုပေး၏။ မြည်းရိုင်းတို့သည်အငတ်
၁၂ ပြေရကြ၏။-ထိုရေအနားမှာမိုဃ်းကောင်းကင်
ငှက် တို့ သည် နေရာ ကျ ၍၊ သစ် ပင် အခက် အ
၁၃ လက်တို့တွင် ကျေးကြော် ကြ၏။- အထက်ခန်း
တော်ထဲက တောင်များကို ရေပေးတော်မူ၏။ စီ
ရင် ပြုပြင် တော်မူ ခြင်းအကျိုး ကြောင့်၊ မြေကြီး
၁၄ သည်ရောင့်ရဲလျက်ရှိ၏။- တိရိစ္ဆာန်အို့မြက်ပင်
ကို၎င်း၊ လူသုံးဘို့စပါးပင်ကို၎င်း ပေါက်စေတော်
မူသဖြင့်၊ မြေကြီးထဲကမုန့်ကို ထုတ်ဆောင်တော်မူ
၁၅ ၏။- စပျစ်ရည်သည်လည်းလူတို့ကိုရွှင်လန်းစေ
၏။ ဆီ အားဖြင့်လည်း သူတို့ မျက် နှာကို ပြောင်
စေတော်မူ၏။မုန့်သည်ထည်း၊ သူတို့ နှစ်လုံးကို
၁၆ ထောက် မ၏။- ထာဝရ ဘုရား၏ သစ် ပင်၊ စိုက်
တော်မူသောလေဗနုန်အာရဇ်ပင်တို့သည်ထဦး
ရောင့် ရဲ လျက် ရှိကြ၏။- ထို အပင် တို့၌ ငှက်တို့
သည်အသိုက်လုပ်တတ်ကြ၏။ ထင်းရှူးပင်တို့၌
၁၇ တောင်နီး တို့သည် နေရာ ကျတတ် ကြ၏။- မြင့်
သော တောင် တို့သည် တော ဆိတ်များ မှီ ခိုရာ၊
ကျောက် တို့သည် ရှာဖန်ယုန်များမှီခိုရာဖြစ်ကြ
၁၈ ၏။- မှိန်း ချက်သော အမှိန်ဘို့၊ လကို ဖန်ဆင်း
တော်မူပြီ။နေသည်ထည်း၊မိမိဝင်ရသောအချိန်
ကိုသိ၏။
၁၉ ကိုယ်တော်သည် မှောင်မိုက်ကို စီရင် တော်မူ
၍ညည့်ဖြစ်ပါ၏။ ထိုအချိန်၌တောထိရိစ္ဆာန်အ
ပေါင်းတို့သည်တွားလျက်ထွက်တတ်ကြပါ၏။-
ခြင်္သေ့ပျို တို့သည် လုရက်ခြင်းအလိုငှါထောက်
၂၀ ၍၊ဘုရားသခင်ထံမှာ အစာကိုရှာကြပါ၏။- ထ
၂၁ ဝန်နေထွက်ပြန်လျှင်၊ သူတို့သည် ဆုတ်သွား၍
နေမြဲတွင်းတို့၌အိပ်နေကြပါ၏။-လူသည်ထည်း
၂၂ ဥပ်ဆောင် ပြုမူခြင်းငှါ ညဦးတိုင်အောင်ထွက်
၂၃ သွားပါ၏။-အိုထာဝရဘုရားကိုယ်တော်စီရင်ပြု
ပြင်တော်မူသော အရာတို့သည် အလွန်များပြား
ပါ၏။ ရှိရှိသမျှတို့ကို ပညာတော် အားဖြင့် ဖန်
ဆင်းတော်မူ၏။ မြေကြီးသည် ဥစ္စာတော်နှင့်
၂၄ ကြွယ်ဝပါ၏။- မရေတွက်နိုင်အောင်များထတ်

သောတိရိစ္ဆာန်အစရှိသော တိရိစ္ဆာန်အကြီးအ
ငယ် အများတို့ နေရာ ကြီးမား ကျယ် ဝန်း သော
၂၆ သမုဒ္ဒရာထဲ၌၎င်းရှိပါသေး၏။-ထိုအရပ်၌သင်္ဘော
တို့သည် သွားလာကြပါ၏၊ ထိုအရပ်၌ ကစားမြူး
စေခြင်းငှါဖန်ဆင်းတော်မူသောငါးကြီးလဝိသန်
၂၇ သည်လည်းရှိပါ၏။- ထိုသို့သော တိရိစ္ဆာန်အ
ပေါင်းတို့ သည် အချိန် တန် လျှင် အ စာ ကျွေး
တော်မူစေခြင်းငှါ၊ကိုယ်တော်ကိုမျှော်လင့်လျက်
၂၈ နေကြပါ၏။-ကိုယ်တော်ချထားတော်မူသည်အ
တိုင်းသူတို့သည် သိမ်းယူကြပါ၏၊ လက်တော်
ကိုဖွင့်တော်မူသောအားဖြင့်၊သူတို့သည်ကောင်း
၂၉ သောအရာနှင့်ရောင့်ရဲကြပါ၏။- မျက်နှာတော်
ကိုလွှဲတော်မူလျှင်၊ သူတို့သည် ပင်ပန်းကြပါ၏၊
သူတို့အသက်ကို ရုပ်သိမ်း တော်မူလျှင်၊ သူတို့
သည်သေ၍ မိမိတို့မြေမှုန့်ထဲသို့ပြန်သွားကြပါ
၃၀ ၏။- ထာဝရဝိညာဉ်တော်ကိုလွှတ်၍၊သူတို့ကိုဖန်
ဆင်းတော်မူသဖြင့်၊မြေကြီး မျက်နှာကို အသစ်
ပြုပြင်တော်မူ၏။
၃၁ ထာဝရ ဘုရား၏ ဘုန်း တော် သည် နိစ္စ အမြဲ
တည်၏။ ထာဝရ ဘုရားသည် မိမိ အမှုတော်တို့
၃၂ ကြောင့် ဝမ်းမြောက်တော်မူ၏။- မြေကြီးကိုကြည့်
ရှုတော်မူ၍သူသည်တုန်လှုပ်တတ်၏။တောင်တို့
ကိုထိတော်မူ၍၊သူတို့သည်မီးခိုးထွက်တတ်ကြ
၃၃ ပါ၏။- ငါသည်အသက်ရှင်စဉ်၊ ထာဝရဘုရား
ကိုသီချင်းဆိုမည်။ငါဖြစ်သည်ကာလပတ်လုံး၊
ငါ၏ဘုရားသခင်ကိုထောမနာသီချင်းဆိုမည်။-
၃၄ ငါ စဉ်းစား ခြင်း အရာ သည် နှစ်သက်တော်
မူဖွယ်ဖြစ်၍၊ ထာဝရဘုရား၌ ငါ ရွှင်လန်းလိမ့်
၃၅ မည်။-ဖြစ်မှားသောသူတို့ကိုမြေကြီးမှသုတ်သင်
ပယ်ရှင်း၍၊မတရားသောသူတို့သည်နောက်တ
ဖန် မဖြစ်ရကြ။ အိုငါ့ဝိညာဉ်၊ ထာဝရ ဘုရားကို
ကောင်းကြီးပေးလော့။ ဟာလေလုယာ။

၁၀၅

၁ ထာဝရဘုရား၏ ဂုဏ်ကျေးဇူး တော်ကို ချီး
မွမ်းကြလော့။ နာမတော်ကိုပဌနာ ပြုကြလော့။
အမှုတော်တို့ကိုလူများတို့အားပြသကြလော့။-
၂ ထာဝရဘုရားကိုသီချင်းဆိုကြလော့။ ဆာလံသီ
ချင်းကိုဆိုကြလော့။ အံ့ဘွယ်သောအမှုတော်အ
၃ ပေါင်းတို့ကိုဟောပြောကြလော့။-သန့်ရှင်းသော
နာမတော်၌ဝါကြွားဝမ်းမြောက်ကြလော့။ ထာ
ဝရ ဘုရားကို ရှာသော သူတို့သည် စိတ်နှလုံး
၄ ရွှင်လန်းကြစေ။- ထာဝရ ဘုရား နှင့် တန်ခိုး
တော်ကိုရှာကြလော့။ မျက်နှာတော်ကိုအစဉ်မ
၅ ပြတ်ရှာကြလော့။- စီရင်တော်မူသောအံ့ဩ
ဘွယ် တို့ ကို ၎င်း၊ ထူး ဆန်း သော အမှု တော် တို့
နှင့် နှုတ်ထွက် ပညတ် တို့ကို၎င်း အောက်မေ့ကြ
၆ လော့။- ထာဝရဘုရား၏ကျွန် အာဗြဟံအမျိုး၊
ရွေးကောက်တော်မူသော ယာကုပ်အနွယ်တို့၊-
၇ ကိုယ်တော်မြတ်ထာဝရဘုရားသည် ငါတို့ဘုရား
သခင်ဖြစ်တော်မူ၏၊ မြေကြီးတပြင်လုံး၌တရား
၈-၁၂ စီရင်ပိုင်တော်မူ၏။- ငါသည် သင်တို့အမွေခံ
ရာအဖို့ခါနာန်ပြည်ကိုသင်၌ပေးမည်ဟု၊ ငါထိုအ
မျိုးသည်အရေအတွက်အားဖြင့်မများ၊ အလွန်
နည်း၍ ထိုပြည်၌ ဧည့်သည်ဖြစ်လျက် နေသော
အခါ၊ အာဗြဟံ၌ဂတိထား၍၊ ဣဇာက်၌ကျိန်
ဆိုတော်မူလျက်၊ ယာကုပ်၌ မြဲမြံသော တရား၊
ဣသရေလ၌ နိစ္စထာဝရပဋိညာဉ်ဖြစ်စေခြင်းငှါ၊
လူမျိုးအဆက် တထောင် တိုင်အောင် မိန့်မြွက်
တော်မူသောနှုတ်ကပတ်တည်း၊ ဟူသော၊ ဝန်ခံ
ခြင်း တရား တော် ကို အစဉ် အမြဲ အောက်မေ့
၁၃ တော်မူ၏။- သူတို့ သည် တပြည်မှတပြည်သို့၎င်း၊ တ
နိုင်ငံမှ တနိုင်ငံ သို့၎င်း၊ ဧည့်သည်၍ သွားကြ
၁၄ သော အခါ၊- သူ တို့ကို ညှဉ်းဆဲ စေခြင်းငှါ အ
ဘယ် သူ အား မျှ အခွင့် ပေးတော် မမူ။ သူတို့အ
၁၅ တွက်ထည်း ရှင်ဘုရင် တို့ကို ဆုံးမလျက်- ငါ၌
ဘိသိတ်ခံသော သူတို့ကို မထိမခိုက် နှင့်၊ ငါ၏
ပရောဖက်တို့ကိုအပြစ်မပြုနှင့်ဟုမိန့်တော်မူ၏။
၁၆ ထိုနောက်၊ထိုပြည်၌ မွတ်သိပ်ခြင်းဘေးကိုခေါ်
၍၊ အစာ အာဟာရ တည်းဟူသော အထောက်
အပင့်ရှိသမျှကို ချိုးဖျက်တော် မူသော အခါ၊-
၁၇ ကျွန်ဖြစ်စေခြင်းငှါ အရောင်းခံရသော ယောသပ်ကို
၁၈ သူတို့ရှေ့မှာစေလွှတ်တော်မူ၏။- သူကိုခြေချင်း
၁၉ ခတ်၍သံနှင့်ညှဉ်းဆဲကြ၏။-သူ၏စကားမပြည့်
စုံမှီ တိုင်အောင်၊ ထာဝရ ဘုရား၏ အမိန့်တော်
၂၀ အတိုင်းစုံစမ်းခြင်းကိုခံရ၏။- လူ တို့ကိုအစိုးရ
သောအရှင်တည်းဟူသော ရှင်ဘုရင်သည် စေ
လွှတ်၍ သူကို ချွတ်ပြီးမှ ချမ်းသာပေးတော်မူ၏။-
၂၁ သူသည်မိမိအလိုရှိသည်အတိုင်းမင်းအရာရှိတို့
၂၂ ကိုချုပ်နှောင်၍၊ မှူးတော်မတ်တော်တို့ကို ဆုံးမ
နိုင်သော အခွင့်နှင့် နန်းတော် အုပ်၊ နိုင်ငံတော်
အုပ်အရာ၌ထိုသူကို ခန့်ထားတော်မူ၏။
၂၃ ဣ သ ရေ လ သည် လည်း အဲဂုတ္တု ပြည် သို့
ရောက်ထ၍၊ ယာကုပ်သည်ဟာမအမျိုး၊နေရာ
၂၄ ပြည်၌တည်းခိုရ၏။-ဘုရားသခင်သည်မိမိလူတို့ကို

အဖျက်များပြားစေ၍၊ ရန်သူတို့ထက်အားကြီး
၂၅ စေတော်မူ၏။- မိမိလူတို့ကို ရန်သူတို့သည်မုန်း
၍၊မိမိကျွန်တို့ကိုပရိယာယ်ပြုမည်အကြောင်း၊
ထိုသူတို့ စိတ် နှလုံး ကို ပြောင်းလဲ စေတော် မူ
၂၆ ၏။-တဖန်မိမိကျွန်မောရှေနှင့်ရွေးကောက်တော်
၂၇ မူသောအာရုန်ကိုစေလွှတ်တော်မူ၏။- အဲဂုတ္တု
ပြည်သားတို့တွင်၊ လက္ခဏာ သက်သေတော်တို့
ကိုပြ၍၊ ဟာမအမျိုးနေရာပြည်၌ အံ့ဖွယ်သော
၂၈ အမှုတို့ကို ပြုကြ၏။- မှောင်မိုက်ကို စေလွှတ်၍၊
မိုက်မဲ စေတော် မူ ၏၊ သူတို့ သည် နှုတ် ကပတ်
၂၉ တော်ကို ဆန့် ကျင် ဘက် မပြုရ ကြ။- သူတို့ရေ
များကို အသွေး ဖြစ် စေ၍၊ ငါး များကို သေစေ
၃၀ တော်မူ၏။- သူတို့မြေသည်များစွာသောဖားတို့
၃၁ ကိုမင်း အိပ်ရာ အခန်းတို့၌ ပင် ဖွားလေ၏။- အ
မိန့်တော်ရှိ၍ယင်ရဲ နှင့်ခြင်တို့သည် တပြည်လုံး
၃၂ ကို နှံ့ပြားကြ၏။- မိုဃ်းရေအစား မိုဃ်းသီးကို
၎င်း၊ သူတို့မြေပေါ်မှာ မီးလျှံကို၎င်း ပေး တော်မူ
၃၃ ၏။- သူတို့စပျစ် နွယ်ပင်နှင့် သင်္ဘောသဖန်းပင်
တို့ကိုထိခိုက်၍၊ တပြည် လုံး၌ ရှိသော သစ်ပင်
၃၄ များကို ချိုးတော် မူ၏။- အမိန့်တော် ရှိ၍ မရေ
တွက် နိုင်အောင်၊ အရာအ ကျိုင်း နှင့် ယာလက်
၃၅ ကျိုင်း တို့သည် လာ၍- သူတို့ပြည်မှာ ဟင်းသီး
ဟင်းရွက် ရှိသမျှတို့ကို၎င်း၊ မြေသြဇာအသီးအ
၃၆ နှံတို့ကို၎င်းကိုက်စားကြ၏။- သူတို့အစွမ်းသတ္တိ
အထွဋ်အမြတ် တည်း ဟူသော သူတို့ ပြည်မှာ
သားဦးအပေါင်းတို့ကို ဒဏ်ခတ်တော်မူ၏။
၃၇ မိမိလူတို့ကိုရွှေငွေပါလျက်ထုတ်ဆောင်တော်
မူ၍၊သူတို့အစုစု၌အားနည်းသောသူတယောက်
၃၈ မျှမရှိ။- အဲဂုတ္တုပြည် သည် သူတို့ကို ကြောက်
သောကြောင့်၊သူတို့သည်ထွက်သွားသောအခါ
၃၉ တပြည်လုံး ဝမ်း မြောက် ၏။- သူတို့ အပေါ်မှာ
မိုဃ်းတိမ်ကို ဖြန့်မိုး၍၊ညည့်အခါ ထင်းစရာဖို့
၄၀ မီးကိုပေးတော်မူ၏။- သူတို့သည်တောင်းသော
အခါ ငုံးများ ကို ဆောင် ခဲ့ တော် မူ၍၊ သူတို့ကို
ကောင်း ကင် မုန့် နှင့် ရောင့် ရဲ စေ တော် မူ ၏။-
၄၁ ကျောက်ကိုလည်း ဖွင့်လှစ် တော် မူသဖြင့်၊ ရေ
သည်ထွက်၍ သွေ့ခြောက်သောအရပ်၌ မြစ်ကဲ့
၄၂ သို့စီးသွားလေ၏။- အကြောင်းမူကား၊မိမိကျွန်
အာဗြဟံ၌ထားခဲ့ဘူးသော၊သန့်ရှင်းသောဂတိ
၄၃ တော်ကို အောင်း မေ့တော် မူ ၏။- ရွေး ကောက်
တော်မူသောမိမိလူတို့ကို ဝမ်းမြောက် ရွှင်လန်း
၄၄ ခြင်း နှင့် တကွ ထုတ်ဆောင် တော် မူ၏။- သူတို့
၄၅ သည် အထုံး အဖွဲ့ တော် တို့ အတိုင်း ကျင့် ၍၊
ပညတ် တရား တော် ကို စောင့် ရှောက် မည် အ
ကြောင်း၊ တပါး အမျိုး သား တို့ ၏ မြေကို ပေး
တော်မူသဖြင့်၊ သူတို့သည်အခြားသောလူတို့၏
အလုပ်ထဲသို့ဝင်စားရကြ၏။ထာလေလုယ။

၁၀၆

၁ ထာဝရဘုရားသည် ကောင်းမြတ်တော် မူ၍၊
ကရုဏာတော်အစဉ်အမြဲတည်သောကြောင့်၊
၂ ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြလော့။- ထာ
ဝရဘုရား၏ တန်ခိုး ကြီးခြင်း အရာတော်တို့ ကို
အထယ်သူပြော နိုင်သနည်း။ဂုဏ်ကျေးဇူးတော်
ကိုအဘယ်သူသည် အကုန်အစင်ဖော်ပြ နိုင်သ
၃ နည်း။-ခပ်သိမ်းသောအခါတို့၌တရားကိုစောင့်
ရှောက်၍၊ဖြောင့်မတ်စွာကျင့်သောသူတို့သည်
မင်္ဂလာရှိကြ၏။
၄ အိုထာဝရဘုရား၊အကျွန်ုပ်သည်ရွေးကောက်
၅ တော်မူသောသူတို့၏ကောင်းကျိုးကိုမြင်စေခြင်း
ငှါ၎င်း၊ ကိုယ်တော်၏လူမျိုးဝမ်းမြောက်ခြင်း၌
ဝမ်းမြောက်၍၊ကိုယ်တော်၏အမွေဖြစ်သောသူ
တို့နှင့်အတူ ဝါကြွား ရွှင်လန်း စေခြင်းငှါ ၎င်း၊
ကိုယ်တော်၏ လူတို့ခံရသောစေတနာတော်နှင့်
တကွ၊ အကျွန်ုပ်ကို အောင်းမေ့ တော် မူပါ။ အ
ကျွန်ုပ်ကိုအကြင်ဖို့အရှုကြွလာ၍ကယ်တင်တော်
၆ မူပါ။-အကျွန်ုပ်တို့သည်ဘိုးဘေးတို့နှင့်အတူပြစ်
မှားကြပါပြီ။ ဒုစရိုက်ကို ပြု ကြပါပြီ။ မတရား
၇ သောအမှုကိုပြုကြပါပြီ။-အဲဂုတ္တုပြည်၌ပြုတော်
မူသော အံ့ဖြော ဖွယ်တို့ကို ဘိုးဘေး တို့သည်
နားမလည်ကြ။ များစွာသောကရုဏာတော်ကို
မအောင်းမေ့ကြ။ပင်လယ်နား၊ဒီးပင်လယ်နား
၈ မှာပုန်ကန် ကြပါ ၏။- သို့သော် လည်း၊ မဟာ
တန်ခိုးတော်ကိုထင်ရှားစေခြင်းငှါ၊နာမတော်၏
အကြောင်း ကြောင့် သူတို့ကို ကယ်တင် တော်မူ
၉ ၏။-ဒီးပင်လယ်ကိုဆုံးမတော်မူ၍၊ ပင်လယ်ရေ
သည်ခန်းခြောက်လေ၏။တော၌ပို့ဆောင်သကဲ့
သို့နက်နဲရာ အရပ်၌ သူတို့ကို ပို့ဆောင် တော်မူ
၁၀ ၏။- မုန်းသောသူ၏လက်မှ သူတို့ကို ကယ်တင်
၁၁ ၍၊ရန်သူ၏ လက်မှရွေး နှုတ်တော်မူ၏။- ရန်သူ
တစုံ တယောက်ကိုမျှ မကျန်ရစ်စေခြင်းငှါ၊ ရေ
၁၂ သည်လွှမ်းမိုးလေ၏။- ထိုအခါ စကားတော်ကို
ယုံ၍ ဂုဏ်ကျေးဇူးတော်ကို သီခြင်းဆိုကြ၏။-
၁၃ သို့သော်လည်း၊ အမှုတော်ကို အလျင် အမြန်မေ့
လျော့သည်ဖြစ်၍၊အကြံအစည်တော်ကိုမဆိုင်း

၁၄ မစောင့်ဘဲ- တောအရပ်၌ အလွန် တပ်မက်၍၊ လူဆိတ်
၁၅ ညံရာအရပ်၌ဘုရားသခင်ကိုစုံစမ်းကြ၏။-သူတို့
တောင်းသောဆုကိုပေးတော်မူ၏၊ သို့သော်လည်း၊
သူတို့၌ပိန်ကြုံခြင်းကိုသွင်းပေးတော်မူ၏။
၁၆ ထိုသူတို့သည်လည်း၊ တပ်ထဲမှာမောရှေကို
၎င်း၊ ထာဝရဘုရား၏ သန့်ရှင်းသူ အာရုန်ကို၎င်း
၁၇ ငြူစူကြ၏။- မြေကြီးသည်ကွဲလျက် ဒါသန်ကိုမျို
၁၈ ၍၊ အဘိရံ၏အသင်းအဝင်ကိုဖုံးအုပ်လေ၏။-သူ
တို့အသင်း အဝင်ထဲမှာ မီးရှို၍၊ မတရားသော
၁၉ သူတို့ကို လောင်လေ၏။- သူတို့သည် ဟောရပ်
တောင်နားမှာ နွားသငယ်ကို လုပ်၍၊ အရည်
သွန်းသော ရုပ်တုကို ပြပ်ဝပ်ကိုးကွယ် ကြ၏။-
၂၀ သူတို့၏ဘုန်းကိုလဲ၍ မြက်ကို စားသောနွား၏ပုံ
၂၁ သဏ္ဌာန်ကိုယူကြ၏။-အဲဂုတ္တုပြည်၌ကြီးသော
၂၂ အမှုတို့ကို၎င်း၊ ဟာမ အမျိုး နေရာ ပြည် ၌ ထူး
ဆန်းသော အမှုတို့ကို၎င်း၊ ဧဂုံ ပင်လယ်နားမှာ
ကြောက်မက် ဖွယ် သော အမှုတို့ကို ၎င်း ပြု၍၊
ကယ်တင်တော်မူသော အရှင်ဘုရားသခင်ကိုမေ့
၂၃ လျော့ကြ၏။-ထိုအခါရွေးကောက်တော်မူသော
မောရှေသည်အမျက်တော်ကိုလွှဲ၍၊ထိုသူတို့ကို
ဖျက်ဆီးတော်မမူစေခြင်းငှါ၊ဖျက်ဆီးရာအရပ်၊
ရှေ့တော်၌ မရပ်လျှင်၊သူတို့ကိုဖျက်ဆီးမည်ဟု
အကြံရှိတော်မူ၏။
၂၄ ထိုသူတို့ သည် လည်း စကား တော် ကို မယုံ၊
၂၅ သာယာသောပြည်ကိုမထီမဲ့မြင်ပြုကြ၏။-မိမိတို့
တဲများ၌ ဆန့်ကျင်ဘက်ပြု၍၊ ထာဝရဘုရား၏
နှုတ်ကပတ်တော်ကို နားမထောင်ဘဲနေကြ၏။-
ထိုကြောင့် သူတို့ကို တော၌ လှည်းခြင်းငှါ၎င်း-
၂၆ သူတို့အမျိုးအနွယ်ကိုတပါးအမျိုးသားတို့တွင်
၂၇ လှည်း၍၊ အပြည်ပြည် အရပ်ရပ်သို့ ကွဲပြားစေ
ခြင်းငှါ၎င်း၊သူတို့တဘက်၌ကျိန်ဆိုတော်မူ၏။
၂၈ ထိုသူတို့သည် ဗာလပေဂုရဘုရား၌ မှီဝဲ၍၊
သူသေရှေ့မှာ ပူဇော်သော ယဇ်ကောင်ကို စား
၂၉ ကြ၏။- ထိုသို့မိမိတို့အမှုများ အားဖြင့် အမျက်
တော်ကိုနှိုးဆော်၍၊ ကာလနာသည်သူတို့ကိုလု
၃၀ ရတ်လေ၏။-ထိုအခါဖိနေဟတ်သည်ထ၍တရား
၃၁ စီရင်သဖြင့်၊ ကာလ နာ သည် ငြိမ်းလေ၏။- ထို
အမှု ကို သူ၏ ဖြောင့် မတ် ခြင်း ကဲ့သို့ လူမျိုး အ
ဆက် ဆက် တည် သော ကာလ အစဉ် မ ပြတ်
၃၂ မှတ်ရ သတည်း။- တဖန်မေရိဗ ရေအနားမှာ
အမျက် တော်ကို နှိုးဆော် ကြ သဖြင့်၊ သူတို့အ
တွက်ကြောင့် မောရှေ၌ အမင်္ဂလာ ဖြစ် လေ၏-
၃၃ သူ၏စိတ်ကို ခြုပ်ခြယ် နှောင့်ရှက်ကြသဖြင့်၊ သူ
၃၄ သည်အမှတ်တမဲ့မြွက်ဆို၏။-ထာဝရဘုရားမိန့်
တော်မူသည်အတိုင်း၊မပြု၊တပါးအမျိုးသားတို့
၃၅ ကိုမဖျက်ဆီးဘဲ နေကြ၏။- သူတို့ နှင့် ရောနှော၍
၃၆ သူတို့၏ဘာသာဓလေ့ကိုသင်ကြ၏။-သူတို့၏ရုပ်
တုများကိုဝတ်ပြု၍ကျော့ကွင်း၌ကျော့မိကြ၏။-
၃၇ ကိုယ် သား သမီး တို့ကို နတ်ဆိုး တို့အား ယဇ်ပူ
၃၈ ဇော်ကြ၏။- ထိုသို့ အပြစ် မရှိသော သူတို့၏ အ
သွေး၊ခါနာန်ရုပ်တုတို့ရှေ့မှာယဇ်ပူဇော်သော
ကိုယ်သား သမီးတို့၏ အသွေးကို သွန် ကြ၍၊ ထို
၃၉ မြေသည် အသွေး နှင့် ညစ်ညူး လေ ၏။- သူတို့
သည်ကိုယ်အကျင့်အားဖြင့် ကိုယ်ကို ညစ်ညူး
စေ၍၊ကိုယ်အမှုတို့တွင်မှားယွင်းကြ၏။
၄၀ ထိုကြောင့်ထာဝရဘုရားသည်မိမိလူတို့ကိုအ
မျက်တော်ထွက်၍၊မိမိအမွေတော်ကို ရွံရှာတော်
၄၁ မူ၏။-သူတို့ကိုတပါးအမျိုးသားတို့လက်သို့အပ်
တော်မူသဖြင့်၊ မုန်းသောသူတို့သည် အုပ်စိုးရ
၄၂ ကြ၏။- ရန်သူတို့သည် ညှဉ်းဆဲ၍၊ သူတို့သည်
၄၃ ရန်သူတို့အောက်မှာနှိမ့်ချခြင်းကိုခံရကြ၏။-သူ
တို့ကိုကြိမ်ဖန်များစွာ ကယ်နှုတ်တော် မူသော်
လည်း၊ ပုန်ကန်သောအကြံကိုသာကြံ၍၊မိမိတို့
ဒုစရိုက် အပြစ်ကြောင့် နှိပ် စက် ခြင်းကို ခံရကြ
၄၄ ၏။- တဖန်သူတို့အော်ဟစ်ခြင်းကိုကြားတော်မူ
၄၅ လျှင်၊သူတို့၌ဆင်းရဲဒုက္ခကိုကြည့်ရှုသဖြင့်-ဝန်
ခံခြင်းဂတိတော်ကိုသူတို့အဖို့ အောက်မေ့၍၊က
ရုဏာတော် များပြားသည် အတိုင်း နောင်တရ
၄၆ တော်မူ၏။-သူတို့ကိုချုပ်ထားသိမ်းသွားသော
သူအပေါင်းတို့သည်သနားရကြမည်အကြောင်း
၄၇ ပြုတော်မူ၏။- အကျွန်ုပ်တို့၏ ဘုရားသခင် ထာ
ဝရဘုရား၊ သန့်ရှင်း သော နာမ တော်၏ ဂုဏ်
ကျေးဇူးသည်ကြီးလှပါ၏ဟု၊အကျွန်ုပ်တို့သည်
ဝန်ခံ၍၊ ကိုယ်တော်ကို ချီးမွမ်းခြင်း၌ ဝါကြွား
ဝမ်း မြောက်မည် အကြောင်း၊ အကျွန်ုပ် တို့ကို
ကယ်တင်လျက်၊ တပါးအမျိုးသားတို့ အထဲက
၄၈ နှုတ်ယူ၍စုသိမ်းတော်မူပါ။ ဣသရေလအ
မျိုး၏ဘုရားသခင်ထာဝရဘုရားသည်ကမ္ဘာအ
ဆက်ဆက်မင်္ဂလာရှိတော်မူစေသတည်း။လူခပ်
သိမ်းတို့သည် အာမင်ဟုဝန်ခံကြစေ။ ဟာလေ
လုယာ။

၁၀၇

၁ ထာဝရဘုရားသည် ကောင်းမြတ်တော် မူ၍၊
ကရုဏာတော်အစဉ်အမြဲ တည်သောကြောင့်၊

၂ ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြသော်။- ရန်
၃ သူ၏လက်မှ ထာဝရဘုရား ကယ်၍ အရှေ့အ
နောက် တောင်မြောက် အရပ်ရပ်ထဲက စုသိမ်း
သောသူတည်းဟူသော၊ ရွေးတော်မူသောသူတို့
၄ သည် ဝန်ခံကြစေ။- သူတို့သည် တောတွင် လူ
ဆိတ်ညံ့ရာအရပ်၌လည်း၍၊ နေစရာမြို့သို့ရောက်
၅ သောလမ်းကို မတွေ့ကြ။- ဆာငတ် မွတ်သိပ်၍
၆ စိတ်ပျက်ကြ၏။- ဆင်းရဲခံရသောအခါ၊ ထာဝရ
ဘုရားကို အော်ဟစ်၍၊ ဆင်းရဲဒုက္ခထဲကဆယ်
၇ နုတ်တော်မူ၏။- သူတို့နေစရာ မြို့သို့ရောက်စေ
ခြင်းငှါ၊ ဖြောင့်သောလမ်းဖြင့် ပို့ဆောင်တော်မူ
၈ ၏။-လူသားတို့၌ပြုတော်မူသောကရုဏာနှင့်အံ့
ဖွယ်သော အမှုတော်တို့ကိုထောက်၍၊ ထာဝရ
ဘုရား၏ ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြစေ။-
၉ အကြောင်းမူကား၊ တောင့်တသော ဝိညာဉ်ကို
ရောင့်ရဲစေ၍၊ မွတ်သိပ်သော ဝိညာဉ်ကိုလည်း၊
ကောင်းသောအရာနှင့်ဝစေတော်မူ၏။
၁၀ ထိုသူတို့သည် ဘုရားသခင်၏ အမိန့်တော်ကို
၁၁ ငြင်းဆန်၍၊ အမြင့်ဆုံးသော ဘုရား၏ အကြံ
တော်ကိုမထီမဲ့မြင်ပြုသောကြောင့်၊ မှောင်မိုက်၊
သေမင်းအရိပ်၌ထိုင်လျက်၊ ဒုက္ခနှင့်ငင်၊သံကြိုး
၁၂ နှင့် ငင် ချည်နှောင်လျက် နေရကြ၏။- ဘုရား
သခင်သည် အမှုရောက်စေ၍၊ သူတို့ စိတ်ကိုနှိမ့်
ချတော်မူ၏၊ သူတို့သည်လဲ၍ထောက်မသောသူ
၁၃ မရှိဘဲ၊-ဆင်းရဲခံရသောအခါ၊ထာဝရဘုရားကို
အော်ဟစ်၍ဆင်းရဲဒုက္ခထဲက ကယ်တင်တော်မူ
၁၄ ၏။- မှောင်မိုက်နှင့် သေမင်းအရိပ်ထဲက ထုတ်
ဆောင်၍ သူတို့ချည်နှောင်ခြင်းကို ဖြတ်တော်မူ
၁၅ ၏။-လူသားတို့၌ပြုတော်မူသောကရုဏာနှင့်အံ့
ဖွယ်သော အမှုတော်တို့ကို ထောက်၍၊ ထာဝရ
ဘုရား၏ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြစေ။-
၁၆ အကြောင်းမူကား၊ ကြေးဝါ တံခါးတို့ကို ချိုး၍၊
သံကန့်လန့်တို့ကိုအပိုင်းပိုင်းဖြတ်တော်မူ၏။
မိုက်သော သဘောရှိသော သူတို့သည် ထမ်း
လွန်၍၊ ဒုစရိုက်ကို ပြုသောကြောင့် ဆင်းရဲခြင်း
၁၈ နှင့်တွေ့ကြုံရကြ၏။-စားစရာမျိုးကို ရွံ၍သေခြင်း
၁၉ တံခါးသေမိုးသို့ချဉ်းကပ်ကြ၏။-ဆင်းရဲခံရသော
အခါ ထာဝရဘုရားကို အော်ဟစ်၍၊ ဆင်းရဲ
၂၀ ဒုက္ခထဲက ကယ်တင်တော်မူ၏။- နှုတ်ကပတ်
တော်ကိုလွှတ်သဖြင့်၊ သူတို့အနာကိုငြိမ်းစေ၍၊
ပျက်ဆီးခြင်းအရေးများ ထဲက နုတ်ယူတော်မူ
၂၁ ၏။- လူသားတို့၌ ပြုတော်မူသော ကရုဏာနှင့်
အံ့ဖွယ်သော အမှုတော်တို့ကို ထောက်၍၊ ထာ
ဝရဘုရား၏ ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြ
၂၂ စေ။- ကျေးဇူးတော် ဝန်ခံရာ ယဇ်ကို ပူဇော်၍၊
ရွှင်လန်းသော အသံနှင့် ထက္ခ အမှုတော်တို့ကို
ကြားပြောကြစေ။
၂၃ သင်္ဘောစီးလျက် ပင်လယ်ကို ကူး၍၊ ရေများ
၂၄ ပေါ်မှာ လုပ်ဆောင်သောသူတို့သည်- နက်နဲရာ
အရပ်၌ ထာဝရ ဘုရား၏ အမှုတော်တို့နှင့်၊ အံ့
၂၅ ဖွယ်သော အမှုတော်တို့ကို မြင်ရကြ၏။- အမိန့်
တော်ရှိ၍ လေပြင်းမုန်တိုင်း ထိုက်သဖြင့်၊ လှိုင်း
၂၆ တံပိုးတို့ကို ထစေ၏။- မိုဃ်းကောင်းကင် ထိုင်
အောင် တက်လျက်၊ နက်နဲရာထဲသို့ ဆင်းလျက်
တွေ့သောဘေးကြောင့်၊ သူတို့သည်စိတ်ပျက်ကြ
၂၇ ၏။-တသည်သည်သွားလျက်ယိမ်းသောသူကဲ့
သို့တိမ်းယိမ်းလျက်နေ၍၊ ဉာဏ်တိမ်မြုပ်ခြင်း
၂၈ ရှိကြ၏။- ဆင်းရဲခံရသောအခါ ထာဝရဘုရား
ကိုအော်ဟစ်၍၊ ဆင်းရဲဒုက္ခထဲက ထုတ်ဆောင်
၂၉ တော်မူ၏။- လေပြင်းကို ငြိမ်စေတော်မူ၍၊
၃၀ လှိုင်းတံပိုးများ ထည်းငြိမ်ဝပ်ကြ၏။- ထိုသို့
ငြိမ်ဝပ်သောကြောင့် သူတို့ သည် ဝမ်းမြောက်
ကြ၏၊ အလိုရှိရာသင်္ဘောဆိပ်သို့ ပို့ဆောင်တော်
၃၁ မူ၏။- လူသားတို့၌ပြုတော်မူသော ကရုဏာနှင့်
အံ့ဖွယ်သော အမှုတော်တို့ကို ထောက်၍၊ ထာ
ဝရဘုရား၏ ဂုဏ်ကျေးဇူးတော်ကို ချီးမွမ်းကြ
၃၂ စေ။- လူပရိသတ်၏အလယ်မှာထာဝရဘုရား
ကိုချီးမြှောက်၍ အသက်ကြီးသူတို့၏အစည်းအ
ဝေး၌ ချီးမွမ်းကြစေ
၃၃ မြစ်တို့ကို လွင်ပြင်ဖြစ်စေခြင်းငှါလည်း၊ စမ်းရေ
ထွက်ရာအရပ်ကိုလည်း သွေ့ခြောက်စေခြင်းငှါ
၃၄ လည်းပြုတော်မူ၏။-မြေကောင်းသောပြည်ကိုပြည်
သူပြည်သားတို့၏အပြစ်ကြောင့်ဆားမြေဖြစ်စေ
၃၅ တော်မူ၏။-တပါန်လွင်ပြင်ကိုရေအိုင်ဖြစ်စေခြင်း
ငှါလည်း၊ သွေ့ခြောက်သော အရပ်ကိုလည်း၊ စမ်း
၃၆ ရေထွက်စေခြင်းငှါလည်းပြုတော်မူ၏။- ထိုအရပ်
၌လည်း၊ ငတ်မွတ်သော သူတို့ကိုနေရာချတော်
မူ၍၊ သူတို့သည်မိမိနေစရာအိုးမြို့ကိုတည်ကြ၏၊
၃၇ လယ်လုပ်လျက်၊စပျစ်ဥယျာဉ်ကိုလည်းစိုက်ပျိုး
၃၈ လျက်၊မြေအသီးအနှံ ထိုကိုပြုစုကြ၏။-ကောင်း
ကြီးပေးတော်မူ၍၊ သူတို့သည် အလွန် ပွားများ
ကြ၏၊သူတို့သိုးနွားများကိုလည်းလျော့စေတော်
၃၉ မမူ။- တဖန်သူတို့သည် လျော့၍ ညှဉ်းဆဲခြင်း
ပြုငြင်ခြင်း၊ စိတ်ပူပန်ခြင်းအားဖြင့် နှိမ့်ချလျက်

၄၀ ဒေရှေညစ်၏။- မင်းသားတို့ကိုအရှက်ခွဲ၍၊ လမ်းမ
၄၁ ရှိသောတောအရပ်၌လည်စေတော်မူ၏။- ဆင်း
ရဲသောသူကိုလည်း၊ ဒုက္ခမှထမြောက်စေ၍၊ သိုး
စုထဲသို့ အိမ်ထောင်ပွားများစေတော်မူ၏။-
၄၂ ဖြောင့်မတ်သောသူတို့သည်မြင်၍၊ ဝမ်းမြောက်
ကြ၏။ ခပ်သိမ်းသော ဒုစရိုက် သည်လည်း မိမိ
၄၃ နှုတ်ကိုပိတ်ရ၏။- အကြင်သူသည် ပညာရှိ၏၊
ထိုသူသည်ဤအမှုအရာတို့ကိုဆင်ခြင်၍၊ ထာဝ
ရဘုရား၏ ကရုဏာကျေးဇူးတော်ကို နားလည်
သိမှတ်မည်။

၁၀၈

၁ အိုဘုရားသခင်၊ အကျွန်ုပ်နှလုံးသည်တည်
ကြည်ပါ၏။ သီချင်း ဆိုပါမည်။ ဝိညာဉ် ပါ
လျက် ချီးမွမ်းသောမနာ ပြုပါမည်။- တယော
၂ နှင့်စောင်းတို့၊ နိုးကြလော့။ ငါသည်စောစောနိုး
၃ မည်။- အိုထာဝရဘုရား၊ ပရိသတ်အလယ်၌
ကိုယ်တော်ကို ချီးမွမ်းပါမည်။ လူမျိုးတို့တွင်
ကိုယ်တော်အား သောမနာသီချင်း ဆိုပါမည်။-
၄ အကြောင်းမူကား၊ ကရုဏာတော်သည်ကောင်း
ကင်သို့ရောက်၍၊ သစ္စာတော်သည် မိုဃ်းတိမ်သို့ရောက်
၅ ပါ၏။- အိုဘုရားသခင်၊ ကောင်းကင်ပြင်သည်
ထက် ကိုယ်တော် ကြီးမြင့်တော်မူစေသတည်း။
မြေကြီး တပြင်လုံးကို ဘုန်းတော် လွှမ်းမိုးပါစေ
၆ သတည်း။- ချစ်တော်မူသော သူတို့ သည် ချမ်း
သာရမည်အကြောင်း၊ အကျွန်ုပ် စကားကိုနား
ထောင်၍၊ လက်ျာလက်ရုံးတော်အားဖြင့်ကယ်
တင်တော်မူပါ။
၇ ဘုရားသခင်သည် သန့်ရှင်းခြင်း ပါရမီတော်ကို တိုင်တည်၍၊
ဘုရားသခင်သည် ဗျာဒိတ်ထားတော်မူသော
ကြောင့်၊ ငါသည်ဝမ်းမြောက်မည်။ ရှေခင်မြို့ကို
ပိုင်းခြားမည်။ သုကုတ်ချိုင့်ကို တိုင်းထွာ
၈ မည်။- ဂိလဒ်ပြည်ကိုငါပိုင်ရ၏။ မနာရှေပြည်ကို
လည်းငါပိုင်ရ၏။ ဧဖရိမ်ပြည်ကား ငါ့ဦးခေါင်း
၏အစွမ်းဖြစ်ရ၏။ ယုဒပြည်ကားငါ၏လွှတ်တော်
၉ ဖြစ်ရ၏။- မောဘပြည်ကား ငါ့ရေချိုးဖိုးဖြစ်ရ
၏။ ဧဒုံပြည်ကား ငါ့ဖိနပ်ချရာ ဖြစ်ရ၏။ ဖိလိတ္တိ
ပြည်အပေါ်မှာအောင်သံနှင့်ကြွေးကြော်မည်။-
၁၀ အားကြီးသော မြို့ထဲသို့ ငါ့ကို အဘယ်သူ သွင်း
ပေးမည်နည်း။ ဧဒုံပြည်သို့ငါ့ကိုအဘယ်သူလမ်း
၁၁ ပြမည်နည်း။- အိုဘုရားသခင်၊ အကျွန်ုပ်တို့ကို
စွန့်ပစ်တော်မူသောကိုယ်တော်သည် ပြုတော်မူ
မည်မဟုတ်လော။ အိုဘုရားသခင်၊ အကျွန်ုပ်တို့
ဗိုလ်ခြေနှင့်အတူ ကြွတော်မမူသော ကိုယ်တော်
၁၂ သည်ပြုတော်မူမည်မဟုတ်လော။- ဒုက္ခနှင့်ကင်း
လွတ်စေခြင်းငှါ မစတော်မူပါ။ လူတို့သည်ကယ်
၁၃ တင်ခြင်းငှါ မတတ်နိုင်ကြပါ။- ဘုရားသခင်အား
ဖြင့် ငါတို့သည်ရဲရင့်စွာပြုကြမည်။ ငါတို့၏ရန်
သူများကိုကိုယ်တော်တိုင်နင်းတော်မူမည်။

၁၀၉

၁ အကျွန်ုပ် ချီးမွမ်းသော ဘုရားသခင်၊ တိတ်
၂ ဆိတ်စွာ နေတော်မမူပါနှင့်။- မတရားသောသူ
နှင့်သစ္စာပျက်သောသူတို့သည်အကျွန်ုပ်တစက်
၌ နှုတ်ကိုဖွင့်၍၊ မုသာစကားကို ပြောဆိုကြပါ
၃ ၏။- မနာလိုသောစိတ်နှင့်စကားပြောလျက်၊ အ
ကျွန်ုပ်ကိုဝိုင်း၍ အကြောင်းမရှိဘဲ စစ်တိုက်ကြ
ပါ၏။-အကျွန်ုပ်၏မေတ္တာအတွက်သူတို့သည်ရန်
ဘက်ပြုကြပါ၏။ အကျွန်ုပ်မူကား ပဌနာပြုလျက်
၅ နေပါ၏။- အကျွန်ုပ်ပြုသော ကျေးဇူးအတွက် မ
ကောင်းသောအပြစ်ကိုဒဏ်၊ အကျွန်ုပ်မေတ္တာအ
တွက် မုန်းခြင်းကိုဒဏ်ဆပ်ပေးကြပါ၏။
၆ ထိုသို့သော သူ၏ အပေါ်မှာ မတရားသောသူ
ကိုခန့်ထားတော်မူပါ။ သူ၏လက်ျာနားမှာရန်သူ
၇ နေပါစေ။- သူသည် တရားစီရင်ခြင်းကို ခံရာ
တွင် ရှုံးပါစေ။ သူပြုသော ပဌနာသည် ပြစ်မှား
၈ ခြင်းဖြစ်ပါစေ။- သူ၏အသက် တိုပါစေ၊ သူ၏အ
၉ ရာကိုလည်း အခြားသူ ရပါစေ။- သူ၏ သားတို့
သည်အဘသားဆိုး၊ မယားလည်း မုဆိုးမဖြစ်ပါ
၁၀ စေ။- သူ၏သားတို့သည် အရပ်ရပ်လည်၍ သူ
တောင်းစား ဖြစ်ကြပါစေ။ ပျက်စီးသော မိမိတို့
၁၁ နေရာများမှထွက်၍၊ အစာကိုရှာကြပါစေ။- သူ
၌ရှိသမျှကိုကြွေးရှင် သိမ်းယူပါစေ။ သူလုပ်၍ရ
သော ဥစ္စာကိုလည်း တပါးအမျိုးသား လုယူပါ
၁၂ စေ။-သူ၌ကျေးဇူးပြုသောသူ၊ သူ၏အဘသားဆိုး
တို့ကို ကယ်မသနားသောသူ တယောက်မျှမရှိ
၁၃ စေနှင့်။- သူ၏အနွယ်သည် ပြတ်ပါစေ။ လူမျိုး
ဆင်းသက်၍ တဆက်တည်းတွင်၊ သူတို့၏နာ
၁၄ မည်သည်ကျေပျောက်ပါစေ။- သူ၏ဘိုးဘေးတို့၏
ဒုစရိုက်ကို ထာဝရဘုရားသည် သတိရတော်မူ
၁၅ ပါစေ။ သူ၏အမိ၏အပြစ်သည်မပြေပါစေနှင့်။-ထို
ဒုစရိုက် အပြစ်သည် ထာဝရဘုရားရှေ့မှာ အစ
စဉ်အမြဲထင်ရှား၍၊ မြေကြီးပေါ်မှာထိုသူတို့ကို
အောက်မေ့စရာ အမှတ်မျှ မရှိစေခြင်းငှါ၊ ပယ်
၁၆ ရှင်းတော်မူပါစေ။- အကြောင်းမူကား၊ ထိုသူ
သည် ကယ်မသနားခြင်းငှါသတိမရှိ၊ ဆင်းရဲ

တော်ရွတ်၍ စိတ်ပျက်သော သူကို သေစေသည်
၁၇ ထိုင်အောင်ညှဉ်းဆဲပြီ၊-သူသည် ကျိန်ဆဲခြင်း
ကိုနှစ်သက်သည်နှင့်အညီ၊ သူအပေါ်သို့ရောက်
ပါစေ။ ကောင်းကြီးမင်္ဂလာကိုအလိုမရှိသည်အ
၁၈ ထိုင်းသူနှင့်ဝေးပါစေ၊- အဝတ်ကိုဝတ်သကဲ့သို့
ကျိန်ဆဲခြင်းကိုဝတ်ရပါစေ။ ရေကဲ့သို့သူ၏ဝမ်း
ထဲသို့၎င်း၊ ဆီကဲ့သို့ သူ၏အရိုးထဲသို့၎င်း ဝင်ပါ
၁၉ စေ၊-သူ၏ကိုယ်ကိုချုံသောအဝတ်ကဲ့သို့၎င်း၊သူ
၏ခါး၌အစဉ်စည်းသောခါးစည်းကဲ့သို့၎င်း၊ သူ
၂၀ ၌ဖြစ်ပါစေ၊- ငါ၏ဝိညာဉ်တဖက်၌ မကောင်း
သော စကားကို ပြောတတ် သောငါ၏ ရန်သူ တို့
သည် ထိုသို့သော အကျိုးကို ထာဝရ ဘုရား ထံ
ခံရကြပါစေ။
၂၁ ထို ဘုရားရှင် ထာဝရ ဘုရား၊ နာမတော်အ
တွက်ကြောင့်အကျွန်ုပ်အမှုကို စောင့်တော်မူပါ၊
ကရုဏာတော်ကောင်းသည်ဖြစ်၍၊အကျွန်ုပ်ကို
၂၂ ကယ်နှုတ် တော်မူပါ။- အကျွန်ုပ်သည် ဆင်းရဲ
တော် ရွတ်ပါ၏၊အကျွန်ုပ်အထဲ၌နှစ်လုံးနာလျက်
၂၃ ရှိပါ၏။- ရှည်လျားသောအရိပ်ကဲ့သို့ အကျွန်ုပ်
ရွေ့သွားပါ၏။ ကျိုင်းကောင်ကဲ့သို့လှုပ်ရှားလျက်
၂၄ ရှိပါ၏။- အစာ မစားဘဲနေရသောကြောင့်၊ ဒူး
၂၅ ဆစ်နုန့်နဲ့၍ အသား ထည်း လျော့ ပါ၏။- အ
ကျွန်ုပ်သည် ထည်း သူ တ ပါး တို့ ကဲ့ ရဲ့ စရာ အ
ကြောင်း ဖြစ် ၍၊ သူ တို့ သည် အကျွန်ုပ် ကို မြင်
၂၆ သောအခါ၊ခေါင်းညှိတ်ခြင်းကိုပြုကြပါ၏။- အ
ကျွန်ုပ်၏ ဘုရားသခင် ထာဝရဘုရား၊ အကျွန်ုပ်
ကို မစတော်မူပါ၊ကရုဏာတော်ရှိသည်အတိုင်း
၂၇ ကယ်တင်တော်မူပါ၊-ထိုအမှုသည်တန်ခိုးတော်
ကြောင့် ဖြစ်၍၊ ထာဝရ ဘုရား တည်း ဟူသော
ကိုယ်တော်စီရင်တော်မူသည်ဟု ထိုသူတို့သည်
၂၈ သိကြပါစေသော၊-ထိုသူတို့သည်ကျိန်ဆဲသော်
ထည်း၊ကိုယ်တော်မူကားကောင်းကြီးပေးတော်
မူပါ။ သူတို့ သည် ထသော အခါ အရှက် ကွဲ ကြ
ပါစေသော၊ ကိုယ် တော်၏ ကျွန် မူကား၊ ဝမ်း
၂၉ မြောက်ပါစေသော၊- အကျွန်ုပ်၏ရန်သူတို့သည်
ရှက်ကြောက်ခြင်းအဝတ်ကိုဝတ်၍၊ စောင်နှင့်
ချုံသကဲ့သို့မျက်နှာ ပျက်ခြင်းနှင့်၊ ကိုယ်ကိုချုံ
၃၀ ကြပါစေသော၊- အကျွန်ုပ် သည် နှုတ်မြွက်၍၊
ထာဝရဘုရား၏ ဂုဏ်ကျေးဇူးတော်ကို အလွန်
ချီးမွမ်းပါမည်၊ များစွာသောသူတို့အလယ်မှာ
၃၁ ချီး မွမ်း ပါမည်။- အကြောင်း မူကား၊ ဆင်းရဲ
သောသူ၏ ဝိညာဉ်ကို အပြစ် စီရင်သော သူတို့ လ

ထက်မှ ကယ်တင်ခြင်းငှါ၊ သူ၏လက်ျာဘက်မှာ
ရပ်၍နေတော်မူတတ်၏။

၁၁၀

၁ ထာဝရဘုရားက၊ သင်၏ ရန်သူတို့ကို သင်၏
ခြေတင်ရာ၊ငါမချမထားမှီတိုင်အောင်၊ငါ၏လက်ျာ
ဘက်၌ ထိုင်နေလော့ဟု၊ ငါ၏ သခင် အား မိန့်
၂ တော်မူ၏။- ထာဝရ ဘုရားသည် အရှင်၏ အာ
ဏာတော်လှံတံကို ဇိအုန်မြို့မှ လွှတ်တော်မူမည်။
ကိုယ်တော်သည်ရန်သူတို့၏ အလယ်၌အုပ်စိုး
၃ တော်မူလိမ့်မည်။-တန်ခိုးတော်ပြသောနေ့ရက်
ကာလ၌၊ ကိုယ် တော်၏ လူတို့ သည် သန့်ရှင်း
သော တန်ဆာကို ဆင်လျက်၊ ကြည်ညိုသောစေ
တနာစိတ်ရှိ၍၊လုလင်တော်တို့သည်နံနက်ဝမ်းထဲ
က ထွက် သော ဆီး နှင်း ကဲ့သို့ ဖြစ် ကြ ပါ လိမ့်
၄ မည်။- ထာဝရဘုရားက၊ သင်သည်မေလခိဇေ
ဒက်နည်းတူထာဝရယဇ်ပုရောဟိတ် ဖြစ်သည်
ဟုကျိန်ဆို၍၊ နောက်တဖန်စိတ်ပြောင်းလဲခြင်း
၅ ရှိတော်မမူ။- လက်ျာတော်နားမှာရှိသောဘုရား
ရှင်သည်အမျက်တော်အမှိန်ကာလ၌ရှင်ဘုရင်
တို့ကိုဖါဏ်ခတ်တော်မူမည်။
၆ ငါ၏သခင် သည် တပါး အမျိုး သား တို့ အတွင်း
တရားစီရင်လျက်၊ အသေကောင် တို့ကို အနှံ့အ
ပြားဖြစ်စေ၍၊ကျယ်သောမြေ၌ သူတို့ဦးခေါင်း
၇ ကိုနှိပ်စက်တော်မူမည်။- ထမ်းနားမှာ စီးသော
ရေကိုသောက်၍၊ခေါင်းတော်ကိုချီးမြှင့်တော်မူ
မည်။

၁၁၁

၁ ငါသည်ဖြောင့်မတ်သောသူတို့၏ အစည်းအ
ဝေး၌၎င်း၊ ပရိသတ် ၌၎င်း၊ ထာဝရ ဘုရား၏
ဂုဏ်တော်ကို စိတ် နှစ်လုံး အကြွင်းမဲ့ ချီးမွမ်း
၂ မည်။- ထာဝရဘုရား၏ အမှုတော်တို့သည်ကြီး
မြတ်ကြ၏။ ကြည်ညိုသော သူတို့သည် ထိုအမှု
၃ တော်တို့ကို ရှာဖွေ လိုက်စစ်တတ်ကြ၏။- စီရင်
တော်မူသောအရာသည် ဘုန်းအသရေနှင့်ပြည့်
စုံ၍၊ ဖြောင့်မတ်တော်ခြင်းတရားလည်းအစဉ်
၄ အမြဲ တည်၏။- အံ့ဩဖွယ်သော အမှုတော် တို့ကို
အောင်းမေ့ဖွယ်ရာစီရင်တော်မူပြီ။ ထာဝရဘုရား
သည် ကျေးဇူးပြုတတ်သောသဘော၊ သနားစုံ
မက်တတ်သောသဘောနှင့် ပြည့်စုံတော် မူ၏။-
၅ ကြောက်ရွံ့ရိုသေသောသူတို့ကို ကျွေးမွေးတော်
မူ၏။ ပဋိညာဉ်တရားတော်ကိုအစဉ်အောင်းမေ့
၆ တော်မူ၏။-အမှုတော်တို့၌ရှိသောတန်ခိုးကိုဖြစ်

ထုတ်ဆောင်သွားပြီ၍၊ တပါးအမျိုးသားတို့၏အမွေကို
၇ ပေးတော်မူ၏။- လက်တော်နှင့် ပြုသောအမှုတို့
သည် သစ္စာနှင့် ၎င်း၊ တရားနှင့် ၎င်း ရှည်ကြ၏။
ပညတ်တော်အလုံးစုံတို့သည် မြဲမြံခိုင်ခံ့ခြင်း၊
၈ ထာဝရနှင့်ကင်းလွတ်ကြ၏။-သစ္စာစောင့်ခြင်း၊
ဖြောင့်မတ်ခြင်းနှင့် ရှည်သော့ကြောင့်၊ အစဉ်
၉ အမြဲတည်ကြ၏။- မိမိလူတို့၌ ရွေးတော်မူခြင်း
ကျေးဇူးကိုပြုတော်မူ၏။ ပဋိညာဉ်တရားတော်
ကိုအစဉ်အမြဲထားတော်မူ၏။ နာမတော်သည်
၁၀ သန့်ရှင်း၏၊ ကြောက်ရွံ့ဖွယ်ဖြစ်၏။- ထာ
ဝရ ဘုရားကို ကြောက်ရွံ့သော သဘောသည်
ပညာ၏ အချုပ်အချာဖြစ်၏။ ပညတ်တော် တို့
ကိုစောင့်ရှောက်ကျင့်သောသူတို့သည် ကောင်း
သောဉာဏ်ရှိကြ၏။ဂုဏ်အသရေတော်သည်
အစဉ်အမြဲတည်သတည်း။

၁၁၂

၁ ထာဝရဘုရားကိုကြောက်ရွံ့၍၊ ပညတ်တော်
တို့၌ အလွန်မွေ့လျော်သော သူသည် မင်္ဂလာရှိ
၂ ၏။- ထိုသူ၏သားမြေးတို့သည် မြေပေါ်မှာ အား
ကြီးကြလိမ့်မည်။ ဖြောင့်မတ်သောသူတို့၏အမျိုး
၃ အနွယ်သည်မင်္ဂလာရှိတတ်၏။-ထိုသူ၏အိမ်၌
စည်းစိမ်ဥစ္စာကြွယ်ဝ၍၊သူ၏ကောင်းကျိုးသည်
၄ အစဉ် အမြဲ တည် တတ်၏။- သဘော ဖြောင့်
သောသူတို့အဖို့၊ မှောင်မိုက်ထဲမှာ အလင်းပေါ်
ထွန်းတတ်၏။ ထိုသို့သော သူသည် ကျေးဇူးပြု
တတ်သောသဘောနှင့် သနားစုံမက်တတ်သော
၅ သဘောရှိ၍၊တရားသဖြင့်ပြုတတ်၏။-ကရုဏာ
စိတ်ရှိ၍ ချေးငှါးတတ် သော သူသည် ကောင်း
စားတတ်၏။ တရားဆုံးဖြတ်ရာကာလ၌အောင်
၆ မြင်းသို့ ရောက်လိမ့်မည်။- အကယ်စင်စစ် လှုပ်
ရှားခြင်းနှင့်အစဉ်ကင်းလွတ်လိမ့်မည်။ဖြောင့်
မတ်သောသူသည်အစဉ်အမြဲအောင်းမေ့ခြင်းရှိရာ
၇ ဖြစ်လိမ့်မည်။- မကောင်းသော သိတင်းကို မ
ကြောက်ရ။ စိတ်နှလုံးသည်ထာဝရဘုရားကို
၈ ကိုးစားသဖြင့်တည်ကြည်တတ်၏။-သူ၏စိတ်နှလုံး
သည်မြဲမြံသည်ဖြစ်၍၊ရန်သူတို့၌အားမရမှီ
တိုင် အောင်၊ကြောက်ခြင်းနှင့်လွတ်လိမ့်မည်။-
၉ သူသည်စွန့်ကြဲပြီ။ ဆင်းရဲသောသူတို့အားပေး
ကမ်းပြီ။သူ၏ဖြောင့်မတ်ခြင်းသည်အစဉ်အမြဲ
တည်တတ်၏။သူ၏ဦးချိုသည်ဂုဏ်အသရေနှင့်
၁၀ ချီးမြှင့်ခြင်းရှိလိမ့် မည်။- မတရားသော သူတို့
သည်မြင်၍၊ နာကြင်သောစိတ်ရှိကြလိမ့်မည်။
သွားခဲကြိတ်၍ပိန်ချုံးကြလိမ့်မည်။ မတရား
သောသူတို့၏အလိုသည်ပျက်စီးရလိမ့်မည်။

၁၁၃

၁ ထာဝရဘုရား၏ကျွန်တော်တို့၊ထာဝရဘုရား
၏ နာမတော်ကို ချီးမွမ်းကြလော့။ ချီးမွမ်းကြ
၂ လော့။- ထာဝရဘုရား၏နာမတော်သည်ယခု
၃ မှစ၍၊အစဉ်အဆက်မင်္ဂလာရှိစေသတည်း။- နေ
ထွက်ရာမှသည် နေဝင်ရာတိုင် အောင်၊ ထာဝရ
ဘုရား၏ နာမတော်သည် ချီးမွမ်းဖွယ် ဖြစ်၏။-
၄ ထာဝရ ဘုရားသည် လူမျိုး တကာတို့ အပေါ်၌
၎င်း၊ ဘုန်းတော်သည် ကောင်းကင် အပေါ်၌ ၎င်း
၅ မြင့်တော်မူ၏။- ကိုယ်ကို ချီး မြှင့်၍ ကျိန်းဝပ်
၆ တော် မူသော်လည်း၊ ကိုယ်ကိုနှိမ့်ချ၍ ကောင်း
ကင်အရာနှင့်မြေကြီးအရာတို့ကိုကြည့်ရှုတော်မူ
သော ငါတို့၏ ဘုရားသခင် ထာဝရဘုရားနှင့်အ
၇ တယ်သူတူသနည်း။- ဆင်းရဲသောသူကိုမြေမှုန့်
ထဲကကြွလျက်၊ ငတ်မွတ်သောသူကိုနောက်ချေး
၈ ပုံထဲကချီးမြှောက်လျက်- မင်းသားတို့အစွင်၎င်း၊
မိမိလူတို့ကို အုပ်စိုးသော မင်းတို့တွင်၎င်း နေရာ
၉ ပေး တော်မူ၏။- မြုံသော မိန်းမသည်အိမ်၌ နေ၍၊
ဝမ်း မြောက်သောစိတ်နှင့် သားဖွားရ သော အ
ခွင့်ကိုပေးတော်မူ၏။ ထာလေလုယာ။

၁၁၄

၁ ဣသရေလအမျိုး၊ယာကုပ်အနွယ်သည်မိုင်း
သော လူမျိုးနေရာ အဲဂုတ္တုပြည်က ထွက်သွား
၂ သောအခါ- ယုဒအမျိုးသည် သန့်ရှင်းရာ ဌာန
တော်ဖြစ်၏။ ဣသရေလ အမျိုးသည် နိုင်ငံတော်
၃ ဖြစ်၏။- ပင်လယ်သည်မြင်၍ပြေးလေ၏။ယော်
၄ ဒန် မြစ် လည်း နောက်သို့ လှည့် လေ၏။- တောင်
ကြီးတို့သည်သိုးကဲ့သို့၎င်း၊ တောင်ငယ်တို့သည်
၅ သိုး သငယ် ကဲ့ သို့ ၎င်း ခုန် ကြ ၏။- အ ချင်း ပင်
လယ်၊သင်ပြေးသည်အကြောင်း၊ အချင်းယော်
ဒန် မြစ်၊ သင် သည် နောက် သို့ လှည့် သည် အ
၆ ကြောင်း၊- အချင်းတောင်ကြီးတို့၊ သင်တို့သည်
သိုးကဲ့သို့ခုန်ကြသည်အကြောင်း၊ အချင်းတောင်
ငယ်တို့၊ သင်တို့သည် သိုးသငယ်ကဲ့သို့ ခုန်ကြ
၇ သည်အကြောင်းကား အဘယ်သို့နည်း။- ဪ မြေ
ကြီး၊ အရှင်၏မျက်နှာ တော်ရှေ့၊ ယာကုပ်အမျိုး
ကိုးကွယ်သောဘုရားသခင်၏ မျက်နှာတော်ရှေ့
၈ မှာတုန်လှုပ်လျက်နေလော့။-ဘုရားသခင်သည်
ကျောက်ကိုရေကန်၊မီးကျောက်ကိုစမ်းရေတွင်း
ဖြစ်စေတော်မူသတည်း။

၁၁၅

၁ အကျွန်ုပ် တို့၌ ဘုန်း မရှိ စေသဲ့၊ အိုထာဝရ
ဘုရား၊အကျွန်ုပ်တို့၌ဘုန်းမရှိစေသဲ့၊ကိုယ်တော်
၏နာမ၌ ကရုဏာတော်နှင့် သစ္စာတော်ကြောင့်
၂ ဘုန်း ရှိပါစေ သတည်း။- သူတို့ ၏ ဘုရား သခင်
သည် အဘယ်မှာ ရှိသနည်း၊ဟု၊ တပါး အမျိုး
သား တို့ သည် အဘယ် ကြောင့် ဆို ရ ကြ မည်
၃ နည်း။- ငါတို့၏ဘုရားသခင်သည် ကောင်းကင်
ဘုံ၌ရှိတော်မူ၏၊ အလိုတော် ရှိသမျှ အတိုင်း ပြု
၄ တော်မူ၏။- သူတို့၏ရုပ်တုများမူကား ငွေထည်
ဖြစ်၏၊ ရွှေထည်ဖြစ်၏၊ လူလက်ဖြင့် လုပ်သော
၅ အရာ ပေတည်း။- ထို ရုပ်တု တို့သည် နှုတ်ရှိ၍
၆ စကားမပြောတတ်၊ မျက်စိရှိ၍ မမြင်တတ်။-နား
ရှိ၍ မကြားတတ်၊ နှာခေါင်း ရှိ၍ မနမ်းတတ်။-
၇ လက်ရှိ၍မကိုင်တတ်၊ ခြေရှိ၍မသွားတတ်၊ လည်
ချောင်းဖြင့်အသံမပြုတတ်ပါတကား။-
၈ လုပ်သော သူတို့သည်အတူတူ၊ ကိုးစားသော
သူအပေါင်းတို့လည်း အတူတူပါတကား။
၉ အို ဣသရေလ အမျိုး၊ ထာဝရ ဘုရားကို ကိုး
စားလော့၊ ထာဝရ ဘုရားသည် ဣသရေလ အ
မျိုးကိုမစသောသူ၊ ကွယ်ကာသောသူဖြစ်တော်
၁၀ မူ၏။- အို အာရုန်အမျိုးသားတို့၊ ထာဝရဘုရား
ကိုကိုးစားကြလော့၊ ထာဝရဘုရားသည်အာရုန်အ
မျိုး သားတို့ကို မစ သောသူ၊ ကွယ် ကာသော သူ
၁၁ ဖြစ် တော် မူ ၏။- ထာဝရ ဘုရား ကို ကြောက်ရွံ့
သောသူတို့၊ ထိုဘုရားကိုကိုးစားကြလော့၊ ထာ
ဝရဘုရား သည် ထိုသို့ သော သူ တို့ကို မစ သော
၁၂ သူ ကွယ်ကာသော သူဖြစ်တော် မူ ၏။- ထာဝရ
ဘုရား သည် ငါ တို့ ကို အောက်မေ့ တော် မူ ၏၊
ကောင်းကြီးပေးတော်မူမည်၊ ဣသရေလအမျိုး
ကိုကောင်းကြီး ပေးတော် မူမည်၊ အာရုန်အမျိုး
၁၃ သားတို့ကိုကောင်းကြီး ပေးတော်မူမည်။- ထာ
ဝရဘုရားကိုကြောက်ရွံ့သောသူ အကြီးအငယ်
၁၄ တို့ကို ကောင်းကြီး ပေးတော် မူမည်။- ထာဝရ
ဘုရားသည် သင်တို့နှင့် သင်တို့ သားမြေးတို့၌
၁၅ မင်္ဂလာကိုတိုးပွားစေတော်မူမည်။-သင်တို့သည်
ကောင်းကင်နှင့် မြေကြီးကို ဖန်ဆင်းသော ထာ
ဝရဘုရားကောင်းကြီး ပေးတော် မူသောသူ ဖြစ်
၁၆ ကြ၏။- ကောင်းကင်ကား၊ ထာဝရ ဘုရား ၏
ကောင်းကင် ဖြစ်၏၊ မြေကြီး ကိုကား လူသားတို့
၁၇ အားပေးတော်မူပြီ။- သေလွန်သောသူ၊ ငြိမ်း
ရာထဲသို့ ဆင်းသော သူ ရှိသမျှတို့သည် ထာဝရ
၁၈ ဘုရားကိုမချီးမွမ်းရကြ။- ငါတို့မူကား ထာဝရ
ဘုရားကိုယခုမှစ၍ အစဉ်အဆက်ကောင်းကြီး
ပေးကြလော့။ သတည်း။ ထာဝရဘုရားကို ချီးမွမ်းကြလော့။

၁၁၆

၁ ထာဝရဘုရားသည်ငါ၏တောင်းပန်ခြင်းအသံ
၂ ကိုကြား၍၊ ငါ့ဆုတောင်းသံကိုနားညွှတ်တော်မူ
သောကြောင့်၊ငါချစ်သတ်၏၊ ငါအသက်ရှင်သ
မျှ ကာလ ပတ်လုံး၊ ထာဝရ ဘုရားကို ပဌနာပြု
၃ မည်။-သေခြင်းကြိုးတို့သည်ငါ့ကိုဝိုင်း၍၊မရဏာ
နိုင်ငံ ဝေဒနာတို့ သည် ငါ့ကို ဖမ်းမိ သဖြင့်၊ ဆင်းရဲ
၄ ဒုက္ခဝေဒနာ နှင့် ငါတွေ့ကြုံရ၏။- ထိုအခါ၊အိုထာ
ဝရဘုရား၊ အကျွန်ုပ်အသက်ကိုကယ်နှုတ်တော်
မူပါမည်အကြောင်းတောင်းပန်ပါ၏ဟု၊ထာဝရ
၅ ဘုရား၏ နာမ တော် ကို ပဌနာ ပြု၏။- ထာဝရ
ဘုရား သည် ကျေးဇူး ပြု တတ် သော သဘော၊
ဖြောင့် မတ် သော သဘော ရှိ တော် မူ ၏၊ ငါတို့
ဘုရားသခင်သည် ကရုဏာ စိတ် ရှိတော် မူ၏။-
၆ ထာဝရဘုရားသည်မလိမ္မာသောသူတို့ကိုစောင့်
မတော် မူ၏၊ ငါသည် နှိမ့်ချထျတ် ရှိသော အခါ
၇ ကယ်တင် တော်မူ၏။- အိုငါ့စိတ်၊ သင်၏ငြိမ်
ဝပ်ရာသို့ပြန်လော့၊ ထာဝရ ဘုရားသည် သင်၌
၈ ကျေးဇူး ပြုတော် မူ ပြီ။- ကိုယ် တော် သည် အ
ကျွန်ုပ်အသက်ကိုသေခြင်းမှ၎င်း၊ အကျွန်ုပ်မျက်
စိကို မျက်ရည် ကျခြင်းမှ ၎င်း၊ အကျွန်ုပ် ခြေ ကို
လည်း ထိမိ၍ လဲခြင်းမှ ၎င်း ကယ်နှုတ် တော်မူ
၉ ပြီ။- သို့ဖြစ်၍၊ အသက်ရှင်သောသူတို့၏ နေရာ
တွင်၊ထာဝရဘုရားရှေ့တော်၌ငါကျင်လည်၍နေရ၏။
၁၀ ငါသည် အလွန် ညှိုးငယ် ခြင်းကို ခံရ၏ ဟု
မြွက်ဆိုသော်လည်း၊ ယုံကြည်သောစိတ်ရှိသေး
၁၁ ၏။- လူအပေါင်းတို့သည် မုသာကိုသုံးတတ်ကြ
၁၂ ၏ဟု၊ သတိသစ်လျှက် ပြောမိ၏။- ငါ၌ ထာဝရ
ဘုရားပြုတော်မူသောကျေးဇူး အလုံးစုံတို့ကိုအ
၁၃ အဘယ်သို့ဆပ်ရမည်နည်း။- ကယ်တင်ခြင်း ခွက်
ဖလားကိုကိုင်လျှက်၍၊ ထာဝရဘုရား၏နာမတော်
၁၄ ကိုပဌနာပြုမည်။-ထာဝရဘုရားအား သစ္စာဂတိ
ထားသည်အတိုင်း၊ထာဝရဘုရား၏လူများရှေ့
၁၅ ၌ သစ္စာဝတ်ကို ဖြေမည်။- ထာဝရ ဘုရား ရှေ့
တော်၌ မိမိသန့်ရှင်းသူတို့၏ သေခြင်းအရာသည်
၁၆ အဘိုးကြီး၏။- အိုထာဝရဘုရား၊ အကျွန်ုပ်
သည်ကိုယ်တော်၏ကျွန်မှန်ပါ၏၊ ကိုယ်တော်၏
ကျွန်မတွင် မြင်သော သားသည်း မှန်ပါ၏၊ အ
ကျွန်ုပ်၌ အချည် အနှောင်ကို ဖြတ်တော် မူပြီ။-

၁၇ ကျေးဇူးတော် ချီးမွမ်းရာ ယဇ်ကို ပူဇော်၍ပူ
ဇော်၍၊ ထာဝရဘုရား၏နာမတော်ကို ပဌနာပြု
၁၈ မည်။- ထာဝရဘုရားအားသစ္စာဝတ်ထားသည့်
၁၉ အတိုင်း၊ ဗိုလ်ယေရုရှလင်မြို့၊ သင်၏အလယ်မှာ
ထာဝရ ဘုရား၏ အိမ် တော် တန်တိုင်း၊ အတွင်း၊
အလုံးထာဝရဘုရား၏လူများရှေ့၌သစ္စာဝတ်ကို
ဖြေပါမည်။ထာဝရဟလေလုယ။

၁၁၇

၁ လူမျိုးအပေါင်းတို့၊ ထာဝရဘုရားကိုချီးမွမ်း
ကြလော့။လူအနွယ်အပေါင်းတို့၊အလွန်ချီးမွမ်း
၂ ကြလော့။- အကြောင်းမူကား၊ ငါတို့၌ကရုဏာ
တော် ကြီးလှ၏။ ထာဝရ ဘုရား၏ သစ္စာ တော်
သည်အစဉ်အမြဲတည်၏။ထာဝရဟလေလုယ။

၁၁၈

၁ ထာဝရဘုရားသည် ကောင်းမြတ်တော် မူ၍၊
ကရုဏာတော်အစဉ်အမြဲတည်သောကြောင့်၊
၂ ဂုဏ်ကျေးဇူးတော်ကိုချီးမွမ်းကြလော့။- ကရု
ဏာတော်အစဉ်အမြဲတည်သည်ဟု ဣသရေလ
၃ အမျိုး ဝန်ခံစေ။- ကရုဏာ တော် အစဉ် အမြဲ
၄ တည်သည်ဟု၊ အာရုန် အနွယ်ဝန်ခံစေ။- ကရု
ဏာတော်အစဉ်အမြဲ တည်သည်ဟု၊ ထာဝရ
ဘုရားကို ကြောက်ရွံ့သော သူတို့သည် ဝန်ခံကြ
စေ။

၅ ငါ သည် ကျဉ်း မြောင်း ရာ ထဲ က ထာဝရ
ဘုရားကိုခေါ်၍၊ထာဝရဘုရားသည်ကျယ်ဝန်း
၆ သော အရပ်ထဲသို့ သွင်း တော် မူ ၏။- ထာဝရ
ဘုရားသည် ငါ့ဘက်မှာ ရှိတော် မူ သည် ဖြစ်၍
၇ ကြောက်စရာမရှိ။လူသည်ငါ၌အဘယ်သို့ပြုနိုင်
သနည်း။- ထာဝရဘုရားသည်ငါ့ဘက်၌မစတော်
မူသည် ဖြစ်၍၊ ငါ့ကို မုန်း သော သူတို့၌ ငါအလို
၈ ဖြည့်စုံ ထိမ့်မည်။- ထာဝရ ဘုရား၌ ခိုလှုံခြင်း
သည်၊ လူကိုကိုးစား ခြင်းထက် သာ၍ ကောင်း
၉ ၏။- ထာဝရ ဘုရား ၌ ခို လှုံ ခြင်း သည် မင်းကို
၁၀ ကိုးစားခြင်းထက်သာ၍ ကောင်း၏။- လူမျိုးအ
ပေါင်းတို့သည်ငါ့ကိုဝိုင်းကြသော်လည်း၊ထာဝရ
ဘုရား၏ နာမတော်အားဖြင့် သူတို့ကိုပယ်ဖြတ်
၁၁ ရ၏။- ငါ့ကိုဝိုင်းကြ၏။ ဝိုင်းကြသော်လည်း၊ထာ
ဝရဘုရား၏ နာမတော် အားဖြင့် သူ့တို့ကို ပယ်
၁၂ ဖြတ် ရ၏။- ပျားများ ကဲ့သို့ ငါ့ကို ဝိုင်း၍ အုံကြ
သော် လည်း၊ ဆူးပင်ကို လောင်သော မီး ကဲ့သို့
ငြိမ်းကြ၏။ ထာဝရဘုရား၏နာမတော်အားဖြင့်
၁၃ သူတို့ကိုပယ်ဖြတ်ရ၏။- သင်သည်ငါ့ကို လဲစေ
ခြင်းငှါပြင်းထန်စွာ တွန်းသော်လည်း၊ ထာဝရ
၁၄ ဘုရားသည် ငါ့ကိုမစတော်မူ၏။- ထာဝရဘုရား
သည် ငါ၏ အစွမ်း သတ္တိ၊ ငါ သီချင်း ဆိုရာ အ
ကြောင်း၊ ငါ့ကို ကယ်တင်ခြင်း အကြောင်း ဖြစ်
၁၅ တော်မူ၏။-ဖြောင့်မတ်သောသူတို့၏နေရာ၌ဝမ်း
မြောက်ခြင်းအသံနှင့် ကယ်တင်ခြင်းအသံရှိ၏။
ထာဝရ ဘုရား၏ လက်ျာလက် တော် သည်ကြီး
၁၆ သော အမှုကို ပြု၏။- ထာဝရ ဘုရား၏ လက်ျာ
လက် တော်သည် ချီးမြှင့် လျက် ရှိ၏။ ထာဝရ
ဘုရား၏လက်ျာလက်တော်သည်ကြီးသောအမှု
၁၇ ကိုပြု၏။-ငါမသေရသေး၊အသက်ရှင်၍ထာဝရ
ဘုရား၏အမှုတော်တို့ကို ကြားပြောရဦးမည်။-
၁၈ ထာဝရ ဘုရား သည် ငါ့ကို ကြပ် တည်းစွာ ဆုံး
မတော်မူသော်လည်း၊သေခြင်း၌အပ်တော်မမူသေး။
၁၉ ဖြောင့်မတ်ခြင်းတံခါးတို့ကိုငါ့အားဖွင့်ကြ။ငါ
ဝင်၍ထာဝရဘုရား၏ ဂုဏ်တော်ကို ချီး မွမ်းရ
၂၀ မည်။- ဤတံခါးသည် ထာဝရဘုရား၏ တံခါး
ဖြစ်၏။ဖြောင့်မတ်သောသူတို့သည်ဝင်ရကြ၏-
၂၁ ကိုယ် တော် ကို အကျွန်ုပ် ချီး မွမ်း ပါ မည်။ အ
ကြောင်း မူကား၊ ကိုယ်တော်သည် အကျွန်ုပ်၏
စကားကိုနားထောင်၍၊ အကျွန်ုပ်ကို ကယ်တင်
၂၂ တော်မူ၏။-တိုက်ကိုတည်လုပ်သောသူများပယ်
ထားသော ကျောက် သည် နောက်တဖန် တိုက်
၂၃ ထောင့် အထွဋ်ဖျားသို့ ရောက်ပြန်၏။- ထိုအမှု
သည်ထာဝရဘုရားပြုတော်မူသော အမှုဖြစ်၏။
ငါတို့ မျက် မှောက်၌ ထည်း အံ့ ဩ ဖွယ် ဖြစ်
၂၄ ၏။-ဤနေ့ရက်သည်ထာဝရဘုရားစီရင်တော်မူ
သောနေ့ရက်ဖြစ်၍၊ယနေ့ဝမ်းမြောက်ရွှင်လန်း
၂၅ ကြကုန်အံ့။- အိုထာဝရဘုရား၊ကယ်တင်တော်
မူပါဟု တောင်းပန် ပါ၏။ အို ထာဝရ ဘုရား၊
ကောင်းကြီးမင်္ဂလာကိုပေးတော်မူပါဟုတောင်း
ပန်ပါ၏။- ထာဝရ ဘုရား၏ အခွင့် နှင့် ကြွလာ
သောသူသည် မင်္ဂလာ ရှိစေ သတည်း။ ထာဝရ
ဘုရား၏အိမ်တော်ထဲက အကျွန်ုပ်တို့သည်ကိုယ်
၂၆ တော်ကို ကောင်း ကြီး ပေးကြ ပါ၏။- ထာဝရ
ဘုရား သည် ဘုရားသခင်ဖြစ်၍၊ ငါတို့၌ ရောင်
ခြည်တော်ကို လွှတ်တော်မူ၏။ ယဇ်တင်ရန် အ
ကောင်ကို ယဇ်ပလ္လင်ဦးချို၌ ကြိုးနှင့် ချည်ကြ
၂၇ လော့။- ကိုယ်တော်သည် အကျွန်ုပ်၏ဘုရားဖြစ်
တော်မူ၍၊ ကိုယ်တော်ကို ချီးမွမ်းပါမည်။ အ
ကျွန်ုပ်၏ဘုရားဖြစ်တော်မူ၍၊ ကိုယ်တော်ကိုချီး
၂၈ မြှောက်ပါမည်။- ထာဝရ ဘုရားသည် ကောင်း

ဖြတ်တော်မူ၍၊ ကရုဏာတော် အစည်အဖြိ
တည်သော ကြောင့်၊ ဂုဏ်ကျေးဇူးတော်ကိုချီး
မွမ်းကြလော့။

## ၁၁၉

၁ ထာဝရဘုရား၏ တရားလမ်း၌ မလွဲမတိမ်း၊
လိုက်သွားသော သူတို့သည် မင်္ဂလာရှိကြ၏။-
၂ သက်သေခံတော်မူချက် တို့ကို စောင့်၍၊ ကိုယ်
တော်ကို စိတ်နှလုံး အကြွင်းမဲ့ ရှာသော သူတို့
သည်မင်္ဂလာရှိကြ၏။-ထိုသူတို့သည်ဒုစရိုက်ကို
မပြု၊လမ်းခရီးတော်၌ လိုက်သွားတတ်ကြ၏။-
အကျွန်ုပ်တို့သည် ကြိုးစား၍၊ ကျင့်မှီရာကိုယ်
၅ တော်သည်ဩဝါဒပေးတော်မူပြီ။- ကိုယ်တော်
၏အထုံးအဖွဲ့များကိုစောင့်နိုင်မည်အကြောင်း၊
၆ အကျွန်ုပ်သည် ထမ်းဖြောင့်ပါစေသော။- အ
ကျွန်ုပ်သည်ပညတ်တော်အလုံးစုံတို့ကိုထောက်
ထားသော အခါ၊ ရှက်ကြောက်ခြင်းနှင့် ကင်း
၇ လွတ်ရပါမည်။- ဖြောင့်မတ်သော စီရင်တော်မူချက်
များကိုအကျွန်ုပ်သင်ကျက်ပြီးမှ၊ ဂုဏ်တော်ကို
၈ ဖြောင့်သောသဘောနှင့်ချီးမွမ်းပါမည်။-ကိုယ်
တော်၏ အထုံးအဖွဲ့ များကို စောင့်ပါမည်။ အ
ကျွန်ုပ်ကိုရှင်းရှင်းစွန့်ပြစ်တော်မမူပါနှင့်။
၉ လူပျိုသည် မိမိသွားသော လမ်းကို အဘယ်
သို့သန့်ရှင်းစေနိုင်ပါမည်နည်းဟူမူကား၊ နှုတ်
၁၀ ကပတ်တော်အတိုင်း၊သတိပြုရမည်။- အကျွန်ုပ်
သည် ကိုယ်တော်ကို စိတ်နှလုံးအကြွင်းမဲ့ ရှာ
ပါ၏။ ပညတ်တော် လမ်းမှ လွဲစေတော် မမူ ပါ
၁၁ နှင့်။- ကိုယ်တော်ကို မပြစ်မှားဘဲနေနိုင်မည်အ
ကြောင်း၊ဗျာဒိတ်တော်ကိုနှလုံးထဲမှာသိုထား
၁၂ ပါပြီ။- အိုထာဝရဘုရား၊ ကိုယ်တော်သည် မင်္ဂ
လာရှိတော်မူ၏။အထုံးအဖွဲ့တော်တို့ကိုအကျွန်ုပ်
၁၃ ၌ သွန်သင်တော် မူပါ။- စီရင် တော် မူ ရာ နှုတ်
တော်ထွက် အလုံးစုံတို့ကိုအကျွန်ုပ်သည် ကိုယ်
၁၄ နှုတ်နှင့်ဟောပြောပါ၏။- ခပ်သိမ်းသောစည်း
စိမ်ဥစ္စာကိုရဘိသကဲ့သို့၊ သက်သေခံတော်မူရာ
၁၅ လမ်း၌ဝမ်းမြောက်ပါ၏။-ပေးတော်မူသောဩ
ဝါဒကိုဆင်ခြင်၍ လမ်းခရီးတော်တို့ကိုကြည့်ရှု
၁၆ ပါ၏။- အထုံး အဖွဲ့ တော်တို့၌ မွေ့လျော် ပါ၏။
နှုတ်ကပတ်တော်ကိုမမေ့ဘဲမနေပါ။
၁၇ ကိုယ်တော်၏ကျွန်သည်အသက်ရှင်၍၊ နှုတ်
ကပတ်တော်ကို စောင့်နိုင်ပါမည် အကြောင်း၊
၁၈ ကျေးဇူးပြုတော် မူပါ။- တရားတော်၌ အံ့ဩဖွယ်
သော အရာတို့ကိုမြင်နိုင်ပါမည်အကြောင်း၊ အ
၁၉ ကျွန်ုပ်၏ မျက်စိတို့ကို ဖွင့်တော်မူပါ။- အကျွန်ုပ်
သည်မြေကြီးပေါ်မှာဧည့်သည်ဖြစ်ပါ၏။ပညတ်
၂၀ တော် တို့ကို ဝှက်ထား တော် မမူ ပါ နှင့်။- စီရင်
တော်မူချက်တို့ကို အစဉ်မပြတ်တောင့်တသော
အားဖြင့်၊အကျွန်ုပ်၏စိတ်နှလုံးကြေကွဲလျက်
၂၁ ရှိပါ၏။- မာနကြီးသောသူနှင့် ပညတ်တော် တို့
ကိုလွန်ကျူး၍၊အကျိန်ခံရသောသူတို့ကိုကိုယ်
၂၂ တော်ဆုံးမတော်မူ၏။- အကျွန်ုပ်သည် သက်သေ
ခံတော်မူချက်တို့ကို စောင့်ပါသည် ဖြစ်၍၊ ကဲ့ရဲ့
ခြင်း၊ မထီမဲ့မြင်ပြုခြင်းနှင့် ကင်းလွတ်စေတော်မူ
၂၃ ပါ။-မင်းတို့သည်အကျွန်ုပ်တစတ်၌ထိုင်၍ပြော
ကြပါ၏။ ကိုယ်တော်၏ကျွန်မူကား၊အထုံးအဖွဲ့
၂၄ တော်တို့ကိုဆင်ခြင်လျက်နေပါ၏။-သက်သေခံ
တော်မူချက်တို့သည် အကျွန်ုပ် မွေ့လျော်ရာ၊ အ
ကျွန်ုပ်တိုင်ပင်ရာဖြစ်ကြပါ၏။
၂၅ အကျွန်ုပ်၏ ဇီဝသက်သည်မြေမှုန့်၌ မှီဝဲလျက်
ရှိပါ၏။ နှုတ်ကပတ်တော် အတိုင်း အသက်ရှင်
၂၆ စေတော်မူပါ။- အကျွန်ုပ်သည်ကိုယ်အကျင့်တို့
ကိုဖော်ပြ၍၊ ကိုယ်တော်သည် နားထောင်တော်
မူပြီ။အထုံးအဖွဲ့တော်တို့ကိုအကျွန်ုပ်၌သွန်သင်
၂၇ တော်မူပါ။- ပေးတော်မူသော ဩဝါဒ လမ်းကို
အကျွန်ုပ် နားလည် စေတော်မူပါ။ အံ့ဩလွှင်ဖွယ်
ဖြစ်သော အမှုတော် တို့ကို ဆင်ခြင် အောက်မေ့
၂၈ ပါမည်။- အကျွန်ုပ်ဝမ်းနည်းခြင်းအားဖြင့်စိတ်
နှလုံးအရည်ပျော်လျက်ရှိပါ၏။နှုတ်ကပတ်တော်
၂၉ အတိုင်းတည်ကြည်စေတော်မူပါ။- မုသာလမ်း
ကိုအကျွန်ုပ်ရှောင်ပါမည်အကြောင်း၊ကယ်မ၍
၃၀ တရားတော်ကို ပေး သနားတော်မူပါ။- သစ္စာ
လမ်းကို အကျွန်ုပ် ရွေးပါပြီ။ စီရင်တော်မူချက်
၃၁ တို့ကို အကျွန်ုပ်ရှေ့မှာထားပါပြီ။- သက်သေခံ
တော်မူချက်တို့၌မှီဝဲပါပြီ။ အိုထာဝရဘုရား၊အ
၃၂ ရှက်ကွဲစေတော်မမူပါနှင့်။- အကျွန်ုပ်ဉာဏ်ကို
ဖွင့်စေတော် မူသည် ဖြစ်၍၊ ပညတ်တော် လမ်း
သို့အလျင်အမြန်လိုက်ပါမည်။
၃၃ အိုထာဝရဘုရား၊ အထုံးအဖွဲ့တော်လမ်းကို
အကျွန်ုပ်အား သွန်သင်တော်မူပါ။ အဆုံးတိုင်
၃၄ အောင်လိုက်သွားပါမည်။-ဉာဏ်ကိုပေးတော်
မူပါ။ တရားတော်ကိုစောင့်ပါမည်။ စိတ်နှလုံး
အကြွင်းမဲ့စောင့်ပါမည်။- ပညတ်တော် လမ်း၌
အကျွန်ုပ်ကို ပို့ဆောင် တော်မူပါ။ ထိုလမ်းကို
၃၅ နှစ်သက်ပါ၏။- အကျွန်ုပ်စိတ်နှလုံးကို လော
ဘအထက်သို့မထုတ်၊ သက်သေခံတော် မူချက်တို့

၃၇ ထက်သို့ ဆွဲတော်မူပါ။- အနတ္တကို မမြင်မငြိ
စေခြင်းငှါ အကျွန်ုပ်မျက်စိကိုအခြားသို့လွှဲတော်
မူပါ။ ထံမ်းခရီးတော်၌အကျွန်ုပ်အသက်ရှင်စေ
၃၈ တော်မူပါ။- ကိုယ်တော်ကို ကြောက်ရွံ့သော
ကိုယ်တော်၏ ကျွန်၌ ဗျာဒိတ်တော်ကို တည်စေ
၃၉ တော်မူပါ။- အကျွန်ုပ် ကြောက်သော ကဲ့ရဲ့ခြင်း
ကိုပယ်ရှောက် စေတော်မူပါ၊ စီရင်တော်မူချက်
၄၀ တို့သည်ကောင်း မွန်ကြပါ၏။-ပေးတော်မူသော
ပြဋ္ဌာန်းချက်များကို တောင့်တပါ၏၊ ဖြောင့်မတ်ခြင်း
တရားတော် အားဖြင့် အကျွန်ုပ်ကို အသက်ရှင်
စေတော်မူပါ။
၄၁ အိုထာဝရဘုရား၊ ဗျာဒိတ်တော်အတိုင်း ကရု
ဏာတော်တည်းဟူသောကယ်တင်တော်မူခြင်း
ကျေးဇူးတော်သည် အကျွန်ုပ် ၌ ရောက် ပါစေ
၄၂ သော။- ထိုသို့အကျွန်ုပ်သည် နှုတ်ကပတ်တော်
ကိုကိုးစားသည် ဖြစ်၍၊ ကဲ့ရဲ့သော သူ၏စကား
၄၃ ကို ချေရာ အကြောင်း၊ မှီရ ပါလိမ့်မည်။- စီရင်
တော် မူချက်တို့ကို အကျွန်ုပ် မြော်လင့်သည်ဖြစ်
၍၊ အကျွန်ုပ် ၏ နှုတ်ထဲက သစ္စာ စကားကို အ,
၄၄ လျှင်း ရုပ်သိမ်းတော်မမူပါနှင့်။- ကိုယ်တော်၏
တရားကိုမပြတ်မလပ် အစဉ်အမြဲကျင့်စောင့်ပါ
၄၅ မည်။-ပေးတော်မူသောပြဋ္ဌာန်းချက်များကိုအကျွန်ုပ်
ရှာဖွေ လေ့ရှိသည်ဖြစ်၍၊ အဆီးအတားမရှိ
၄၆ ထဲသွားလာရပါ၏။-သက်သေခံတော်မူချက်တို့
ကို မင်းများ ထံမှာ ဖြင့် ပြော၍၊ ရှက် ကြောက်
၄၇ ခြင်း နှင့် ကင်း လွတ် ပါလိမ့် မည်။- အကျွန်ုပ်
သည် နှစ် သက် သော ပညတ် တော် တို့ ၌ မွေ့
၄၈ လျော်ပါမည်။- နှစ်သက်သော ပညတ်တော် တို့
အား လက် တို့ကိုချီ၍၊ အထုံးအဖွဲ့တော် တို့ကို
ဆင်ခြင်အောက်မေ့ပါမည်။
၄၉ အကျွန်ုပ် မြော် လင့်စရာ အကြောင်း၊ ကိုယ်
တော် ၏ ကျွန်၌ ထားတော် မူသော နှုတ်ကပတ်
၅၀ တော်ကို အောက်မေ့တော်မူပါ။- ဗျာဒိတ် တော်
အားဖြင့်အကျွန်ုပ်အသက်ရှင်သည်ဖြစ်၍၊ဆင်း
ရဲကိုခံရစဉ်တွင်၊ထိုနှုတ်ကပတ်တော်သည်အ
၅၁ ကျွန်ုပ်သက်သာစရာအကြောင်းဖြစ်ပါ၏။-မာန
ကြီးသော သူတို့သည် အကျွန်ုပ်ကို အလွန် ကဲ့ရဲ့
သော်လည်း၊ ကိုယ်တော် ၏ တရား ထုံးကို အ
၅၂ ကျွန်ုပ်မရှောင်ပါ။- အိုထာဝရဘုရား၊ ရှေးကာ
လ၌စီရင်တော်မူချက်တို့ကိုအကျွန်ုပ်အောက်မေ့
၅၃ ၍၊ ကိုယ်ကိုကိုယ် နှစ် သိမ့် စေပါ၏။- တရား
တော် ကို စွန့် ပယ် သော အဓမ္မ လူတို့ကြောင့်၊
အကျွန်ုပ်၌ ပူလောင်သော မိတ် နှလုံး ဖျော်ရှိ
၅၄ ပါ၏။-အကျွန်ုပ်ဧည့်သည်နေရာအိမ်တွင်အထုံး
အဖွဲ့ တော် တို့သည် အကျွန်ုပ် သီခြင်းဆိုရာအ
၅၅ ကြောင်းဖြစ်ကြပါ၏။- အိုထာဝရဘုရား၊ ညဉ့်
အချိန်၌ နာမ တော် ကို အကျွန်ုပ် အောက်မေ့ ၍
၅၆ တရားတော်ကို စောင့်ပါ၏။- ပေးတော်မူသော
ပြဋ္ဌာန်းချက်များကို နားထောင်သော အားဖြင့် အသ
ရပါ၏။
၅၇ အိုထာဝရဘုရား၊ ကိုယ်တော်သည်အကျွန်ုပ်
၏အဖို့ဖြစ်တော်မူ၏။ နှုတ်ကပတ်စကားတော်တို့
ကိုနားထောင်ပါမည်ဟု၊ အကျွန်ုပ်ပြောထားပါ
၅၈ ပြီ။- ကျေးဇူးတော်ကို ခံရပါမည် အကြောင်း
ကိုယ်တော်ကို စိတ်နှလုံး အကြွင်းမဲ့ တောင်း
ပန်ပါ၏။ ဗျာဒိတ်တော် အတိုင်း အကျွန်ုပ်ကို အ
၅၉ နားတော်မူပါ။-ကိုယ်လိုက်ရာလမ်းကိုဆင်ခြင်
သောအခါ၊ သက်သေခံတော်မူချက်တို့သို့ ဖျာ
၆၀ ၍လိုက်ပါ၏။- ပညတ်တော်တို့ကိုစောင့်ခြင်းငှါ
၆၁ မဆင့်မနှဲ့ အလျင်အမြန် ပြုပါ၏။- မတရားသော
သူအစည်းအဝေး တို့သည် အကျွန်ုပ်ကို ဝိုင်းကြ
သော်လည်း၊ အကျွန်ုပ်သည်တရားတော်ကိုမမေ့
၆၂ မလျော့ပါ။- တရားသဖြင့် စီရင်တော်မူချက်တို့
ကို ထောက် ၍၊ ဂုဏ်တော်ကို ချီးမွမ်း ခြင်း ငှါ၊
သန်း ခေါင် အချိန် ၌ အကျွန်ုပ် ထ ထတ် ပါ ၏။-
၆၃ ကိုယ်တော်ကိုကြောက်ရွံ့သောသူ၊ ပေးတော်မူ
သော ပြဋ္ဌာန်းချက်ကို နားထောင်သော သူ ရှိသမျှတို့
၆၄ နှင့် အကျွန်ုပ်ပေါင်းဖော်တတ်ပါ၏။- အိုထာဝရ
ဘုရား၊ မြေကြီးသည် ကရုဏာတော်နှင့်ပြည့်ဝ
ပါ၏၊ အထုံး အဖွဲ့ တော်တို့ကို အကျွန်ုပ်၌ သွန်
သင်တော်မူပါ။
၆၅ အိုထာဝရဘုရား၊ နှုတ်ကပတ်တော် အတိုင်း
ကိုယ် တော် ၏ ကျွန် ၌ ကျေး ဇူး ပြု တော် မူ ၏။-
၆၆ ပညတ်တော်တို့ကို အကျွန်ုပ်ယုံကြည်သည်ဖြစ်
၍၊ ကောင်း သော ဉာဏ် နှင့် ပညာ တော် အ
၆၇ ထက်ကို သွင်း ပေးတော် မူပါ။- အကျွန်ုပ် သည်
ဆင်းရဲမခံမှီ ထမ်းလွဲပါ၏။ ယခုမူကား၊ ဗျာဒိတ်
၆၈ တော် အ တိုင်း ကျင့် စောင့် ပါ ၏။- ကိုယ် တော်
သည် ကောင်းသော သဘော၊ ကျေးဇူး ပြုတတ်
သောသဘောရှိတော်မူ၏။ အထုံးအဖွဲ့တော်တို့
၆၉ ကိုအကျွန်ုပ် ၌ သွန်သင် တော် မူ ပါ။- မာနကြီး
သောသူတို့သည်အကျွန်ုပ်တဘက်၌ မုသာစကား
ကိုကြံစည် သော်လည်း၊ ကိုယ်တော်၏ ဥပဒေသ
၇၀ များကို စိတ်နှလုံး အကြွင်းမဲ့ကျင့်ပါ၏။- သူတို့

နှစ်လုံးသည် ဆီဥကဲ့သို့ ခဲလျက် ရှိ၏။ အကျွန်ုပ်
မူကား၊ ကိုယ်တော်၏ တရား၌ မွေ့လျော်ပါ၏။-
၇၁ အထုံးအဖွဲ့တော်တို့ကို သွန်သင်စေခြင်းငှါ၊ အ
ကျွန်ုပ် ဆင်းရဲခံရသော ကျေးဇူးသည် ကြီးပါ
၇၂ ၏။- နှုတ်တော်ထွက်တရားတော်သည်ရွှေငွေအ
ထောင်အသောင်းထက်မက၊ အကျွန်ုပ်၌ သာ၍
ကောင်းပါ၏။
၇၃ ကိုယ်တော်၏ လက်တို့ သည် အကျွန်ုပ်ကို ဖန်
ဆင်း၍၊ ပုံသဏ္ဌာန်ကို ပေး တော် မူပြီ။ ပညတ်
တော်တို့ကို အကျွန်ုပ် သင်နိုင်သော ဉာဏ်နှင့်
၇၄ ပြည့်စုံစေတော်မူပါ။- နှုတ်ကပတ်တော်ကို အ
ကျွန်ုပ် မျှော်လင့် သော ကြောင့်၊ ကိုယ် တော်ကို
ကြောက်ရွံ့သော သူတို့သည် အကျွန်ုပ်ကို မြင်၍
၇၅ ဝမ်းမြောက်ကြပါလိမ့်မည်။-ဖိုထာဝရဘုရား၊
စီရင်တော် မူချက်တို့သည် ဖြောင့်မှန် ကြောင်းကို
၎င်း၊ သစ္စာတော်နှင့်အညီအကျွန်ုပ်ကိုဆင်းရဲစေ
၇၆ တော်မူကြောင်းကို၎င်းအကျွန်ုပ်သိပါ၏။-ကိုယ်
တော်၏ကျွန်၌မိန့်တော်မူချက်အတိုင်း၊ ကရုဏာ
တော်သည်အကျွန်ုပ်ကိုချမ်းသာပေးပါစေသော
၇၇ ဟုဆုတောင်းပါ၏။- ကိုယ်တော်၏တရားသည်
အကျွန်ုပ် မွေ့ လျော်ရာ ဖြစ် ပါ ၏။ ထိုကြောင့် အ
ကျွန်ုပ် အသက် ရှင် မည် အကြောင်း၊ သနား စုံ
မက်တော်မူခြင်းသည်သက်ရောက်ပါစေသော။-
၇၈ မာန ကြီးသော သူတို့ သည် ရှက်ကြောက် ကြပါ
စေသော။ အကြောင်းမရှိဘဲအကျွန်ုပ်၌မတရား
သဖြင့်ပြုကြပါပြီ။အကျွန်ုပ်မူကား၊ကိုယ်တော်၏
ဥပဒေသများကို ဆင်ခြင် အောင်း မေ့ ပါမည်။-
၇၉ ကိုယ် တော်ကိုကြောက်ရွံ့သောသူ၊ သက်သေခံ
တော်မူချက်တို့ကိုသိသော သူတို့သည်အကျွန်ုပ်
၈၀ ထံသို့လှည့်ကြပါစေသော။ - ရှက်ကြောက်ခြင်း
နှင့်ကင်းလွတ်မည်အကြောင်း၊အကျွန်ုပ်နှစ်လုံး
သည်အထုံးအဖွဲ့တော်တို့၌ စုံထင်ပါစေသော။
၈၁ အကျွန်ုပ်၏ ဝိညာဉ် သည် ကယ် တင် တော်မူ
ခြင်း ကျေးဇူးကို တောင့်တ လျက် နှင့် ခွန်အား
လျော့ပါ၏။သို့သော်လည်း၊ နှုတ်ကပတ်တော်ကို
၈၂ မျှော်လင့်ပါ၏။- အကျွန်ုပ်ကို အဘယ်ကာလမှ
ချမ်းသာပေးတော်မူပါမည်နည်းဟူ၍၊အကျွန်ုပ်
မျက်စိတို့သည်ဗျာဒိတ်တော်ကို မျှော်လင့်လျက်
၈၃ အားကုန်ပါ၏။- မီးခိုး၌ရှိသော သားရေ ဘူးကဲ့
သို့အကျွန်ုပ်ဖြစ်ပါ၏။ သို့သော်လည်း၊အထုံးအ
၈၄ ဖွဲ့တော် တို့ကို မမေ့မလျော့ပါ။- ကိုယ် တော် ၏
ကျွန် နေရ သော နေ့ ရက် ကာလ အ ဘယ် မျှ
လောက်ကြာရပါမည်နည်း။အကျွန်ုပ်ကိုညှဉ်း
ဆဲသောသူတို့အား၊အဘယ်ကာလမှတရားဆုံး
၈၅ ဖြတ် တော် မူ မည် နည်း။- မာန ကြီး သော သူ၊
ကိုယ်တော်၏ တရား ကို လွန် ကျူး သော သူတို့
သည်အကျွန်ုပ်အဖို့တွင်းများကို တူးကြပါပြီ။-
၈၆ အလုံး စုံသော ပညတ်တော်တို့သည် သစ္စာနှင့်
ပြည့်စုံကြပါ၏။ သူတပါးတို့သည် အကြောင်းမ
ရှိဘဲ အကျွန်ုပ်ကို ညှဉ်းဆဲကြသည်ဖြစ်၍၊ မစ
၈၇ တော်မူပါ။- သူတို့သည်အကျွန်ုပ်ကိုမြေကြီးပေါ်
ကသုတ်သင် ပယ်ရှင်းလုပါပြီ။ သို့သော်လည်း၊
ကိုယ်တော်၏ ဥပဒေသ များကို အကျွန်ုပ် မစွန့်
၈၈ ပါ။-ကရုဏာတော်ရှိသည်အတိုင်းအကျွန်ုပ်ကို
အသက် ရှင်စေတော်မူပါ။ နှုတ်တော် ထွက် ဗျာ
ဒိတ်တော်ကိုစောင့်ပါမည်။
၈၉ ဖိုထာဝရ ဘုရား၊ နှုတ် ကပတ် တော်သည်
၉၀ ကောင်းကင်ဘုံ၌အစည်အမြဲတည်ပါ၏။-သစ္စာ
တော်သည် လူမျိုး အဆက်ဆက် မြဲမြဲပါ၏။ မြေ
ကြီးကိုတည်စေတော်မူသဖြင့်၊ သူသည်အမြဲနေ
၉၁ ပါ၏။-ခပ်သိမ်းသောအရာတို့သည်ကိုယ်တော်
၏ကျွန်ဖြစ်၍စီရင်တော်မူသည်နှင့်အညီ၊ယနေ့
၉၂ တိုင်အောင် အမြဲ နေကြပါ၏။- အကျွန်ုပ်သည်
ကိုယ်တော်၏တရား၌မွေ့လျော်ခြင်းမရှိလျှင်၊အ
၉၃ ထက်ကဆင်းရဲခံစည်ပျက်စီးပါပြီ။-ကိုယ်တော်
၏ဥပဒေသများကိုအစဉ်မမေ့မလျော့နိုင်ပါ။ အ
ကြောင်း မူကား၊ ထိုဥပဒေသများအားဖြင့်၊ အ
၉၄ ကျွန်ုပ်ကို အသက် ရှင်စေ တော် မူ၏။- အကျွန်ုပ်
သည်ကိုယ်တော်၏ကျွန်ဖြစ်ပါ၏။ ကိုယ်တော်၏
ဥပဒေသများကို ရှာဖွေလိုက်စစ်သော့ကြောင့်၊
၉၅ အကျွန်ုပ်ကိုကယ်တင်တော်မူပါ။- အကျွန်ုပ်ကို
ဖျက်ဆီးခြင်းငှါ၊မတရားသောသူတို့သည်စောင့်
လျက်နေကြပါ၏။ သို့သော် လည်း၊ သက် သေခံ
တော်မူချက်တို့ကို အကျွန်ုပ်ဆင်ခြင် အောင်းမေ့
၉၆ ပါမည်။-ခပ်သိမ်းသောစုံလင်ခြင်း၏အဆုံးကို
အကျွန်ုပ်မြင်ပါပြီ။ ပညတ်တရားတော်မူကား၊
အလွန်ကျယ်ဝန်းပါ၏။
၉၇ ကိုယ်တော် ၏ တရား ကို အကျွန်ုပ် သည် အ
လွန် နှစ်သက် ပါ၏။ တနေ့ လုံး ဆင်ခြင် အောင်း
၉၈ မေ့ လျက် နေပါ ၏။- ပညတ် တရား တော်သည်
အကျွန်ုပ် ၏ ရန်သူ တို့ထက်၊ အကျွန်ုပ်ကို သာ၍
ပညာ ရှိစေ ပါ၏။ ပညတ် တရားတော်သည် အ
၉၉ ကျွန်ုပ်၌ အစည် တည် ပါ၏။- သက်သေ ခံတော်
မူချက်တို့ကို အကျွန်ုပ်သည် ဆင်ခြင် အောင်းမေ့

ထောခြင့်၊ အကျွန်ုပ်၏ ဆရာ အပေါင်းတို့
၁၀၀ ထက်သာ၍နားလည်ပါ၏။- ကိုယ်တော်၏ဥပ
ဒေသများကိုစောင့်သောကြောင့်၊ အသက်ကြီး
၁၀၁ သူတို့ထက်သာ၍ညာဏ်ကောင်းပါ၏။- နှုတ်
ကပတ်တော်ကို စောင့်ထိန်းသောငှါ၊ မကောင်း
၁၀၂ သောလမ်းရှိသမျှတို့ကိုရှောင်ပါ၏။- ကိုယ်
တော်သည် သွန်သင်တော်မူသောကြောင့်၊ စီ
ရင်တော်မူချက်တို့မှအကျွန်ုပ်လွှဲ၍မသွားပါ။-
၁၀၃ မိန့်တော်မူချက်တို့သည် အကျွန်ုပ်အာခေါင်၌
အလွန်ချိုကြပါ၏၊ ခံတွင်း၌ပျားရည်ထက်
၁၀၄ သာ၍ချိုကြပါ၏။- ကိုယ်တော်၏ဥပဒေသများ
အားဖြင့်၊ အကျွန်ုပ်သည် ညာဏ် တိုးပွား၍၊
မိစ္ဆာလမ်းရှိသမျှတို့ကိုမုန်းပါ၏။
၁၀၅ နှုတ်ကပတ်တော်သည် အကျွန်ုပ်ခြေရှေ့မှာ
မီးခွက်ဖြစ်၍၊ အကျွန်ုပ်လမ်းခရီးကိုလင်းစေ
၁၀၆ ပါ၏။- ဖြောင့်မတ်သောစီရင်တော်မူချက် တို့ကို
စောင့်ပါမည်ဟု၊ အကျွန်ုပ် ကျိန် ဆိုသည် အ
၁၀၇ တိုင်းပြုပါမည်။- အိုထာဝရဘုရား၊ အကျွန်ုပ်
သည်အလွန် ဆင်းရဲခြင်းကိုခံရပါ၏၊ နှုတ်က
ပတ်တော်အတိုင်း အသက်ရှင်စေတော်မူပါ။-
၁၀၈ အိုထာဝရဘုရား၊ အကျွန်ုပ်သဘောစေတနာစိတ်
ရှိ၍၊ ကိုယ်နှုတ်နှင့် ဆက်သော ပူဇော် သက္ကာ
တို့ကိုနှစ်သက်တော်မူပါ။ စီရင်တော်မူချက်တို့
ကိုလည်း၊ အကျွန်ုပ်၌ သွန်သင် တော် မူ ပါ ဟု
၁၀၉ တောင်း ပန် ပါ ၏။- အကျွန်ုပ် အသက် သည်
ကိုယ် လက် ၌ အစဉ်ရှိပါ၏၊ သို့သော်လည်း၊
၁၁၀ တရားတော်ကိုမမေ့မလျော့ပါ။- မတရားသော
သူတို့သည် အကျွန်ုပ်အဖို့ကျော့ကွင်းကို ထောင်
ထားကြပါ၏၊ သို့သော်လည်း၊ ကိုယ်တော်၏
၁၁၁ ဥပဒေသ များမှ လွဲ၍ မသွားပါ။- သက်သေခံ
တော်မူချက်တို့သည်အကျွန်ုပ် နှလုံးရွှင်လန်း
ရာဖြစ်၍၊ ကိုယ် အမွေ ဥစ္စာကို အစဉ်အမြဲခံ
၁၁၂ ယူပါ၏။- အထုံး အဖွဲ့တော် တို့သို့ အဆုံးတိုင်
အောင် အစဉ်လိုက်ခြင်းအလို့ငှါ၊ ကိုယ်စိတ်
နှလုံးကိုတိုက်တွန်းပါ၏။
၁၁၃ အကျွန်ုပ်သည် အစဉ်မှုလူတို့ကိုမုန်း၍၊ ကိုယ်
၁၁၄ တော်၏တရားကိုနှစ်သက်ပါ၏။- ကိုယ်တော်
သည် အကျွန်ုပ်၏အကွယ်အကာ၊ အကျွန်ုပ်၏
ဒိုင်းလွှားဖြစ်တော်မူ၏၊ နှုတ်ကပတ် တော်ကို
၁၁၅ မျှော်လင့်လျက်နေပါ၏။- ဒုစရိုက်ကို ပြုသော
သူတို့၊ ငါ့ထံမှဖယ်သွားကြ၊ ငါသည်ဘုရားသခင်
၁၁၆ ၏ပညတ်တော်တို့ကို ကျင့်စောင့်မည်။- အ
ကျွန်ုပ်သည် အသက် ရှင် ပါမည့် အကြောင်း၊
မိန့်တော်မူချက်အတိုင်း ထောက်မတော်မူပါ၊
အကျွန်ုပ်မျှော်လင့်ခြင်း အကြောင်းမှမရှက်မ
၁၁၇ ကြောက်ပါစေနှင့်။- အကျွန်ုပ်သည် ချမ်းသာ
ရပါမည်အကြောင်း မစတော်မူပါ၊ အထုံးအဖွဲ့
၁၁၈ တော်တို့ကိုအစဉ်ဆင်ခြင်ပါမည်။- အ
ထုံး အဖွဲ့တော်တို့မှ လွှဲသွားသောသူတို့
ကို ပယ်တော် မူ၏၊ သူ တို့ ပရိယာယ် သည်
၁၁၉ မုသာ ဖြစ်ပါ၏။- မတရား သော မြေ သား အ
ပေါင်း တို့ ကို ချော် ကဲ့ သို့ ပယ် တော် မူ၏၊ ထို
ကြောင့်သက်သေခံတော်မူချက်တို့ကိုအကျွန်ုပ်
၁၂၀ နှစ်သက် ပါ၏။- ကိုယ်တော် ကို ထိတ်လန့် အ
ခြင့်၊ အကျွန်ုပ်သည်ကြက်သီးမွေးညှင်းထ၍၊
စီရင်တော်မူချက်တို့မှကြောက်ပါ၏။
၁၂၁ အကျွန်ုပ်သည်တရားဆုံးဖြတ်ခြင်း၊ ဖြောင့်
မတ်စွာ စီရင်ခြင်းကို ပြုပါပြီ၊ ညှဉ်းဆဲသော
သူတို့လက်၌ အကျွန်ုပ်ကို ပြစ်ထားတော်မမူပါ
၁၂၂ နှင့်။- ကိုယ်တော်၏ကျွန် အကျိုးအလို့ငှါ အာမခံ
တော်မူပါ။ မာနကြီးသောသူတို့သည် အကျွန်ုပ်
၁၂၃ ကိုမညှဉ်းဆဲကြပါစေနှင့်။- ကယ်တင်တော်မူ
ခြင်းကျေးဇူးကို၎င်း၊ ဖြောင့်မတ်ခြင်း တရား
တော်နှင့် ဆိုင်သော ဗျာဒိတ် တော်ကို၎င်း၊ အ
ကျွန်ုပ် မျက်စိ သည် မျှော်၍ အား ကုန် ပါပြီ။-
၁၂၄ ကရုဏာတော်ရှိသည်အတိုင်း၊ ကိုယ်တော်၏
ကျွန်၌ ပြု၍၊ အထုံးအဖွဲ့ တော်တို့ကို သွန်သင်
၁၂၅ တော်မူပါ။- အကျွန်ုပ်သည်ကိုယ်တော်၏ကျွန်
ဖြစ်ပါ၏၊ သက်သေ ခံ တော် မူ ချက် တို့ကို နား
လည် နိုင်သော ညာဏ် ကို ပေး သနားတော် မူ
၁၂၆ ပါ။- အိုထာဝရဘုရား၊ စီရင်တော်မူရန်ရောက်
ပါပြီ၊ သူတပါး များတို့သည် တရား တော် ကို
၁၂၇ ပယ်ကြပါ၏။- အကျွန်ုပ်မူကား၊ ပညတ်တော်
တို့ကို ရွှေ ထက် မက၊ ရွှေစင် ထက် သာ၍ နှစ်
၁၂၈ သက်ပါ၏။- သို့ဖြစ်လျှင်၊ ကိုယ်တော်၏ဥပဒေ
သ အလုံးစုံ တို့သည် ဖြောင့် ကြ သည်ဟု ထင်
မှတ်လျက်၊ မိစ္ဆာလမ်းရှိသမျှတို့ကိုမုန်းပါ၏။
၁၂၉ သက်သေ ခံတော် မူချက် တို့သည် အံ့ဩ
ဖွယ် ဖြစ် ၍၊ အကျွန်ုပ် ဝိ ညာဉ် သည် စောင့်
၁၃၀ ရှောက်တတ်ပါ၏။- နှုတ်ကပတ်တော်ကိုဖွင့်ပြ
ခြင်းသည် အလင်းကိုပေး၍၊ မလိမ္မာသောသူ
၁၃၁ တို့ကိုလိမ္မာစေတတ်ပါ၏။- ပညတ်တော်တို့ကို
အကျွန်ုပ် တောင့်တ အားကြီးသဖြင့်၊ နှုတ်ကို
၁၃၂ ဖွင့်၍ဟန်းဟိုက်ပါ၏။- နာမတော်ကိုချစ်သော

ထုံထိုးနှင့်ပြုတော်မူတတ်သည်အတိုင်း၊ အကျွန်ုပ်
၁၃၃ ကို ကြည့်ရှု၍ ကယ်မ သနားတော်မူပါ။- မိန့်
တော်မူချက် အစီအရင်အတိုင်း အကျွန်ုပ်ခြေလှမ်း
ထိုက်ကို ဖြောင့်စေ တော် မူ ပါ။ အကျွန်ုပ် ကို အ
ဓမ္မမည်သောအရာစရိုက်မျှအစိုးမရပါစေနှင့်။-
၁၃၄ လူထို၏ ညှဉ်းဆဲခြင်းထဲက အကျွန်ုပ်ကို ရွေး
နှုတ်တော်မူပါ။ ကိုယ်တော်၏ဥပဒေသများကို
၁၃၅ စောင့် ပါမည်။- မျက်နှာ တော် ၏ အလင်းကို
ကိုယ်တော်၏ ကျွန်အပေါ်မှာ ထွန်းလင်းစေ၍၊
အထုံးအဖွဲ့တော်တို့ကို သွန်သင်တော် မူပါ။-
၁၃၆ လူတပါး များတို့သည် တရားတော်ကိုမစောင့်
သောကြောင့်၊ အကျွန်ုပ် မျက်စိထဲမှ မျက်ရည်
ထည်မြစ်ရေကဲ့သို့စီးပါ၏။
၁၃၇ အိုထာဝရဘုရား၊ ကိုယ်တော်သည် ဖြောင့်
မတ် တော် မူ ၏၊ စီရင် တော် မူချက် တို့ သည်
၁၃၈ ဖြောင့်မတ်ကြပါ၏။- ထားတော်မူသော သက်
သေခံတော်မူချက်တို့သည်လည်း တရားနှင့်ညီ
၁၃၉ ၍ ထ စွာ မြဲကြ ပါ၏။- ရန်သူ တို့သည် စကား
တော်တို့ကို မေ့လျော့သောကြောင့်၊ စွဲလမ်းပူ
ပန်ခြင်းစိတ်သည် အကျွန်ုပ် ကို ညှဉ်းဆဲပါ၏။-
၁၄၀ နှုတ်ကပတ်တော်သည် အလွန်စင်ကြယ်သည်
ဖြစ်၍၊ ကိုယ်တော် ၏ ကျွန် သည် နှစ်သက်ပါ
၁၄၁ ၏။- အကျွန်ုပ်သည်ငယ်သောသူ၊ မထီမဲ့မြင်ပြု
ခြင်းကို ခံရသောသူ ဖြစ်ပါ၏။ သို့သော်လည်း၊
ကိုယ် တော် ၏ ဥပဒေသ များကို မမေ့ မလျော့
၁၄၂ ပါ။- ဖြောင့်မတ် တော်မူခြင်းသည် နိစ္စထာဝရ
ဖြောင့်မတ်ခြင်းဖြစ်ပါ၏။ ကိုယ်တော်၏တရား
၁၄၃ သည်သစ္စာတရားဖြစ်ပါ၏။- ဆင်းရဲ ညှိုးငယ်
ခြင်းသို့ ရောက် သော်လည်း၊ ပညတ်တော် တို့
၁၄၄ သည် အကျွန်ုပ်မွေ့လျော်ရာ ဖြစ်ပါ၏။- သက်
သေခံတော်မူချက်တို့သည် အစဉ်အမြဲဖြောင့်
ကြပါ၏။ အကျွန်ုပ် သည် အသက် ရှင် ပါမည်
အကြောင်း၊ ဉာဏ်ကိုပေးသနားတော်မူပါ။
၁၄၅ အကျွန်ုပ်သည် စိတ်နှစ်လုံး အကြွင်းမဲ့ အော်
ဟစ်ပါ၏။ အိုထာဝရဘုရား၊ နားထောင်တော်မူ
ပါ။ အထုံး အဖွဲ့ တော် တို့ကို စောင့် ပါမည်။-
၁၄၆ ကိုယ်တော်ကိုအော်ဟစ်ပါ၏၊ ကယ်တင်တော်
မူပါ။ သက်သေ ခံတော် မူချက် တို့ကို စောင့်ပါ
၁၄၇ မည်။- မိုဃ်းမလင်းမှီအကျွန်ုပ်အော်ဟစ်တတ်
ပါ၏။ နှုတ်ကပတ်တော်ကို မျှော်လင့်လျက်နေ
ပါ၏။- ဗျာဒိတ်တော်တို့ကိုဆင်ခြင်အောင်းမေ့
ထိုးသော၄ါ၊ ညဉ့်ယံမလွန်မှီအကျွန်ုပ်နိုးထတ်
၁၄၉ ပါ၏။- အို ထာဝရ ဘုရား၊ ကရုဏာ တော်ရှိ
သည် အတိုင်း အကျွန်ုပ် စကားကို နားထောင်
တော်မူပါ၊ စီရင်တော်မူချက် နှင့်အညီအကျွန်ုပ်
၁၅၀ ကိုအသက်ရှင်စေတော်မူပါ။- မကောင်းသော
အကြံအစည်၌ ကျင်လည်သောသူတို့သည် အ
နီးသို့ချဉ်းကြပါ၏။ သူတို့သည်ကိုယ်တော်၏
၁၅၁ တရား နှင့် ဝေး ကြ ပါ၏။- အိုထာဝရဘုရား
ကိုယ်တော်သည် နီးတော်မူ၏။ အထုံးစုံသော
၁၅၂ ပညတ်တော်တို့သည်သစ္စာဖြစ်ကြပါ၏။-သက်
သေခံတော်မူချက်တို့ကိုအစဉ်အမြဲထားတော်
မူကြောင်းကို၊ ရှေးဦးစွာမှစ၍အကျွန်ုပ်သိပါ၏။
၁၅၃ အကျွန်ုပ် ခံရသော ဆင်းရဲခြင်းကို ကြည့်ရှု
၍၊ ကယ် နှုတ်တော်မူပါ။ ကိုယ်တော်၏တရား
၁၅၄ ကိုမမေ့မလျော့ပါ။- အကျွန်ုပ်အမှုကိုစောင့်၍
အကျွန်ုပ်ကိုရွေးနှုတ်တော်မူပါ။ ဗျာဒိတ်တော်
၁၅၅ အားဖြင့် အသက်ရှင်စေတော်မူပါ။- မတရား
သောသူတို့သည် အထုံးအဖွဲ့တော်တို့ကို မရှာ
သောကြောင့်၊ ကယ်တင်ခြင်းနှင့်ဝေးကြပါ၏။-
၁၅၆ အို ထာဝရဘုရား၊ သနား စုံမက်တော် မူ ခြင်း
သဘောသည်ကြွယ်ဝပါ၏။ စီရင်တော်မူချက်
နှင့်အညီ၊ အကျွန်ုပ်ကို အသက် ရှင်စေတော်မူ
၁၅၇ ပါ။-အကျွန်ုပ်ကိုညှဉ်းဆဲသောသူနှင့်ရန်ထတ်
ပြုသော သူတို့ သည် များ ကြ ပါ၏။ သို့သော်
လည်း၊ အကျွန်ုပ်သည်သက်သေခံတော်မူချက်
၁၅၈ တို့မှလွှဲ၍မသွားပါ။- သစ္စာမရှိသော သူတို့ကို
အကျွန်ုပ်သည်မြင်၍ စိတ်နာပါ၏၊ အကြောင်း
မူကား၊ သူတို့သည် ဗျာဒိတ်တော်စကားကိုနား
၁၅၉ မထောင်ဘဲနေကြပါ၏။- ကိုယ်တော်၏ ဥပဒေ
သများကို အကျွန်ုပ် နှစ်သက်ကြောင်းကို မှတ်
တော်မူပါ။ အိုထာဝရဘုရား၊ ကရုဏာတော်ရှိ
သည် အတိုင်း၊ အကျွန်ုပ် ကို အသက် ရှင်စေ
၁၆၀ တော်မူပါ။-နှုတ်ကပတ်တော်အထုံးစုံတို့သည်
ထုတ်မှန်ပါ၏။ တရားသဖြင့် စီရင်တော်မူချက်
ရှိသမျှတို့သည်အစဉ်အမြဲတည်ကြပါ၏။
ရှ၁၆၁ အစိုးရသော သူတို့သည် အကြောင်းမရှိဘဲ
အကျွန်ုပ်ကိုညှဉ်းဆဲကြသော်လည်း၊ အကျွန်ုပ်
စိတ် နှစ်လုံးသည် စကားတော်ကို ကြောက်ရွံ့
၁၆၂ ပါ၏။-ထက်ရဥစ္စာများကိုတွေ့သကဲ့သို့ ဗျာဒိတ်
တော်စကားကြောင့် အကျွန်ုပ် ဝမ်းမြောက်ပါ
၁၆၃ ၏။- မုသာ စကား ကို ကြားပွင်း ရွံရှာ ပါ၏။
၁၆၄ တရား တော်ကိုကား နှစ်သက် ပါ၏။- ဖြောင့်
မတ်စွာ စီရင်တော်မူချက်များကြောင့်၊ ထိုထိ

တော်ကို ထရက်လျှင် ပူဇော်ကြိမ် ချီးမွမ်းတော်
၁၆၅ ပါ၏- တရားတော်ကို နှစ်သက်သော သူတို့၌
ကြီးစွာ သောငြိမ် ဝပ်ခြင်း ရှိပါ၏၊ သူတို့ ဓိတ်
၁၆၆ ရှုတ် စရာ အ ကြောင်း မ ရှိ ပါ၊- အို ထာဝရ
ဘုရား၊ ကယ်တင်တော်မူခြင်း ကျေးဇူးကို အ
ကျွန်ုပ် မျှော်လင့်၍၊ ပညတ် တော်တို့ကို ကျင့်
၁၆၇ ပါ၏- သက်သေခံတော်မူချက်တို့ကိုအကျွန်ုပ်
ဓိညည်သည် စောင့်ပါ၏၊ အလွန် နှစ်သက် ပါ
၁၆၈ ၏- ကိုယ် တော်၏ ဥပဒေသတို့နှင့် သက်သေ
ခံတော် မူချက် တို့ကို စောင့်ပါ၏၊ အကျွန်ုပ် အ
ကျင့်ရှိသမျှတို့သည်ရှေ့တော်၌ရှိကြပါ၏။
၁၆၉ အို ထာဝရ ဘုရား၊ အကျွန်ုပ် အော် ဟစ်သံ
သည်ရှေ့တော်သို့ ရောက်ပါစေသော၊ နှုတ်က
ပတ်တော်အတိုင်း ဉာဏ်ကိုပေးသနားတော်
၁၇၀ မူပါ၊- အသနားတော်ခံသော စကားသည်ရှေ့
တော်သို့ ရောက်ပါစေသော၊ ဂတိ တော်အ
၁၇၁ တိုင်း အကျွန်ုပ်ကို ကယ်နှုတ်တော် မူပါ၊- အ
ထုံးဖွဲ့တော်တို့ကို သွန်သင်တော် မူသောအ
ခါ၊အကျွန်ုပ်၏နှုတ်သည် ချီး မွမ်းခြင်းကိုမြွက်
၁၇၂ ဆိုပါ မည်၊- အထုံး ဖွဲ့သော ပညတ် တော် တို့
သည်ဖြောင့်မတ်ပါသည်ဖြစ်၍၊ အကျွန်ုပ်လျှာ
သည် ဂတိတော်ကို ဘော်ပြခြင်း ဆိုရပါ မည်၊-
၁၇၃ ကိုယ် တော်၏ ဥပဒေသ များကို နှစ်သက် ပါ
သည်ဖြစ်၍၊ လက်တော်သည်အကျွန်ုပ်ကိုမစ
၁၇၄ ပါစေသော၊-အိုထာဝရဘုရား၊ကယ်တင်တော်
မူခြင်း ကျေးဇူးကို အကျွန်ုပ် တောင့်တပါ ၏၊
တရားတော်သည်ထည်း အကျွန်ုပ်မွေ့လျော်ရာ
၁၇၅ ဖြစ်ပါ၏၊-အကျွန်ုပ်သည်အသက်ရှင်၍၊ကိုယ်
တော်ကို ချီးမွမ်းပါစေသော၊ စီရင်တော်မူချက်
၁၇၆ တို့သည်အကျွန်ုပ်ကိုမစကြပါစေသော၊-ပျောက်
သောသိုးကဲ့သို့ အကျွန်ုပ်သည် လမ်းလွဲပါပြီ၊
ကိုယ်တော်၏ ကျွန်ကိုရှာတော်မူပါ၊အကျွန်ုပ်
သည်ပညတ်တော်တို့ကိုမမေ့မလျော့ပါ၊

၁၂၀

၁ အကျွန်ုပ်သည်ဆင်းရဲခံရသောအခါ ထာဝ
ရဘုရားကို အော်ဟစ်၍၊ ထာဝရဘုရားသည်
နားထောင်တော် မူ၏၊- အို ထာဝရဘုရား၊ အ
ကျွန်ုပ် အသက်ကို သစ္စာ မရှိသော နှုတ်မှငင်၊
လှည့်စားတတ်သောလျှာမှငင် ကယ်နှုတ်တော်
၃ မူပါ၊-အို လှည့်စားတတ်သောလျှာ၊သင်သည်
အဘယ်ကျေးဇူး ရှိသနည်း၊ အဘယ် အကျိုး
၄ ကို ခံရ သနည်း၊- အားကြီး သော သူ၏ ထက်
သောမြှားကဲ့သို့ငှင်၊ ရသစ်ထင်းမီးခဲကဲ့သို့
၅ ငှင်ဖြစ်၏၊- ငါသည်မေရှက်ပြည်၌ တည်းခို၍၊
ကေဒါတဲ၌နေရသည် အရာမှာ အမင်္ဂလာ ရှိ၏၊-
၆ ငြိမ်သက်ခြင်းကို မုန်းသော သူတို့နှင့် အတူ ငါ
ဓိညည်သည် ကြာမြင့် စွာနေရပါသည်တကား၊-
၇ ငါသည် ငြိမ်သက်ခြင်း၊ ထက်မှာနေ၏၊ ငါပြော
လျှင်မူကား၊ သူတို့သည် စစ်တိုက်ခြင်းငှါ အဆို
ရှိကြ၏၊

၁၂၁

၁ ငါကို မစခြင်း အကြောင်း၊ ထည် ပေါ်ထွက်ရ
၂ သော တောင်များသို့ ငါမျှော်ကြည့် ၏၊- ကောင်း
ကင်နှင့်မြေကြီးကိုဖန်ဆင်းတော်မူသောထာဝရ
ဘုရားထံတော်မှ၊ ငါ့ကိုမစခြင်းအကြောင်းထည်
ပေါ်ထွက်ရ၏၊
၃ သင်၏ခြေကို ချော်စေခြင်းငှါ အခွင့်ပေးတော်
မမူ၊သင့်ကိုစောင့်သောသူသည်အိပ်တော်မမူ၊-
၄ အကယ်စင်စစ် ဣသရေလ အမျိုးကို စောင့်သော
သူသည်ငိုက်မျည်း၊အိပ်ပျော်ခြင်း ရှိတော်မမူ၊-
ထာဝရ ဘုရားသည် သင့်ကို စောင့် တော်မူ၏၊
ထာဝရ ဘုရား သည် သင် ၏ လက်ျာ ထက်၌ ရှိ
၆ သောသင်မိုဃ်းရာ အရိပ်ဖြစ်တော်မူ၏- နေ့ အ
ချိန်၌နေထားဖြင့်၎င်း၊ညဉ့်အချိန်၌လထားဖြင့်
၇ ၎င်းအထိအခိုက်မရှိရာ၊- ထာဝရဘုရားသည်မ
ကောင်းသောအမှုအရာအလုံးစုံတို့ကိုကွယ်ကာ
၍၊ သင်၏အသက်ကို စောင့်တော် မူလိမ့်မည်၊-
၈ ထာဝရ ဘုရား သည် သင်၏ ထွက် ခြင်း နှင့် ဝင်
ခြင်းတို့ကိုယခုမှစ၍ အစဉ်မပြတ်စောင့်တော်
မူလိမ့်မည်၊

၁၂၂

၁ ငါ တို့သည် ထာဝရ ဘုရား၏ အိမ် တော် သို့
သွားကြ ကုန်စို့ဟု၊ သူတပါး တို့သည် ပြော ကြ
၂ သောအခါ၊ ငါသည်ဝမ်းမြောက်ခြင်း ရှိ၏၊- အို
ယေရုရှလင်မြို့၊ သင်၏ တံခါးတို့အတွင်း၌ ငါတို့
၃ သည် ရပ်၍ နေကြ လိမ့် မည်၊- ယေရုရှလင်မြို့
၄ သည် စေ့စပ်သော မြို့ကဲ့သို့တည်၏၊- အမျိုးအ
နွယ်တို့သည်ထိုမြို့သို့တက်ကြ၏၊ဣသရေလအ
မျိုးထုံးစံ ရှိသည်အတိုင်း၊ ထာဝရ ဘုရား၏ အ
မျိုး၊အနွယ်တို့သည်ထာဝရဘုရား၏နာမတော်
၅ ကို ချီး မွမ်း ခြင်းငှါ တက် သွား ကြ၏၊- ထိုမြို့၌
တရားစီရင်ရာပလ္လင်၊ဒါဝိဒ်မင်းမျိုး၏ရာဇပလ္လင်
၆ တို့သည် တည် ကြ၏၊- ယေရုရှလင်မြို့ ငြိမ် ဝပ်
မည် အကြောင်း ဆုတောင်းကြလော့၊ ထိုမြို့ကို

ငြိမ်ဝပ်ခြင်း၌ ချစ်သောသူတို့သည် ချမ်းသာရကြ
၇ ပါစေသော။-သင်၏မြို့ရိုးအတွင်း၌ငြိမ်ဝပ်ခြင်း၊
သင်၏ ဘုံဗိမာန် ထဲ၌ ချမ်းသာခြင်း ရှိပါစေ
၈ သော။- သင်၌ ငြိမ်ဝပ်ခြင်းရှိပါစေသောဟု၊ ငါ
သည် ညီအစ်ကို အဆွေ ခင်ပွန်းတို့အ
၉ တွက်ပြောဆိုပါမည်။-ငါတို့ဘုရားသခင်ထာဝ
ရဘုရား၏ အိမ်တော်ကို ထောက်၍၊ သင်၏ အ
ကျိုးကိုရှာပါမည်။

၁၂၃

၁ ကောင်းကင်ဘုံ၌ ကျိန်းဝပ်တော်မူသော
ဘုရား၊ ကိုယ်တော်ကို အကျွန်ုပ် မျှော်ကြည့်ပါ
၂ ၏။-ကျွန်ထိုသည် သခင်ထက်ကိုငှင်း၊ ကျွန်မထို
သည်သခင်မထက်ကိုငှင်မျှော်ကြည့်သည်နည်း
တူ၊အကျွန်ုပ်တို့သည်ကယ်မသနားတော်မူခြင်း
ကျေးဇူးကိုမခံမှီ တိုင်အောင်၊ အကျွန်ုပ် တို့၏
ဘုရားသခင်ထာဝရဘုရားကိုမျှော်ကြည့်လျက်
၃ နေကြပါ၏။- အိုထာဝရဘုရား၊ ကယ်မသနား
တော်မူပါ၊ အကျွန်ုပ်တို့သည်အရှုတ်အရှက်ကွဲ
ခြင်းကို ခံရပါသည်ဖြစ်၍၊ ကယ်မသနားတော်
၄ မူပါ။- မထီမဲ့မြင် ပြုသောသူတို့ ၏ ကဲ့ရဲ့ခြင်းကို
ငှင်း၊ မာနကြီးသောသူတို့၏အရှက်ခွဲခြင်းကိုငှင်း၊
အကျွန်ုပ်တို့၏ဝိညာဉ်သည်အလွန်ခံရပါ၏။

၁၂၄

၁ ထာဝရဘုရားသည် ငါတို့ထက်မှာရှိတော်မ
မူလျှင် ဟူသော စကားနှင့်ရှိ၍၊ ဣသရေလ အ
၂ မျိုးဆိုရသောစကားဟူမူကား။- ထာဝရဘုရား
သည်ငါတို့ထက်မှာရှိတော်မမူလျှင်၊လူတို့သည်
၃ ငါတို့ရန်ထက်၌နေကြသောအခါ-အမျက်ထွက်
၍ငါတို့ကို အသက်နှင့်တကွ မျိုကြပြီတကား။-
၄ ထိုအခါငါတို့ကိုရေသည်လွှမ်းမိုး၍ မြစ်ရေ
သည် ငါတို့ အသက် ဝိညာဉ် အပေါ်မှာ ကျော်
၅ သွားပြီတကား။- မာနကြီးသော ရေတို့သည်ငါ
တို့အသက်ဝိညာဉ်အပေါ်မှာ ကျော်သွားကြပြီ
၆ တကား။- သူတို့ သွားနှင့် ကိုက်ခဲရာ ဆီ ငါတို့ကို
အပ်တော်မမူသော ထာဝရဘုရားသည်မင်္ဂလာ
၇ ရှိတော်မူစေသတည်း။- ငှက်သည် မုဆိုးထို၏
ကျော့ကွင်းထဲက လွတ်သကဲ့သို့၊ ငါတို့ အသက်
သည်လွတ်လျက်ရှိ၏၊ ကျော့ကွင်းပြတ်၍ ငါတို့
၈ သည် လွတ်ကြပြီ။- ကောင်းကင် နှင့် မြေ ကြီး
ကို ဖန်ဆင်းတော် မူသော ထာဝရဘုရား၏နာမ
တော်အားဖြင့်၊ ငါတို့သည်မစခြင်းကျေးဇူးကို
ခံရကြသတည်း။

၁၂၅

၁ ထာဝရဘုရားကို ခိုလှုံသောသူတို့သည်မလှုပ်
မရှားပ်၊အစဉ်အမြဲတည်သောဇိအုန်တောင်ကဲ့
၂ သို့ဖြစ်ကြ၏။- တောင်များတို့သည် ယေရုရှလင်
မြို့ကိုဝန်းရံသကဲ့သို့၊ ထာဝရဘုရားသည်မိမိလူ
တို့ကိုယခုမှစ၍၊ကာလအစဉ်မပြတ်ဝန်းရံတော်
၃ မူ၏။- ဖြောင့်မတ်သော သူတို့သည် ရစရိုက်ကို
ပြုသော အခွင့် မရှိစေခြင်းငှါ၊ မတရားသောသူ
တို့၏လှံတံသည်ဖြောင့်မတ်သောသူတို့၏အမွေခံ
ရာအဖို့အပေါ်မှာမတည်မနေရ။
၄ အိုထာဝရ ဘုရား၊ ကောင်းသောသူ၊ သဘော
ဖြောင့်သောသူတို့အား ကျေးဇူး ပြုတော်မူပါ။-
၅ ကောက်သောလမ်းများသို့ လွှဲသွားသောသူတို့
ကိုကား၊ ထာဝရဘုရားသည် မတရားသဖြင့် ပြု
သောသူတို့နှင့် အတူ ထုတ်သွားတော်မူမည်၊ ဣ
သရေလအမျိုး၌ငြိမ်ဝပ်ခြင်းရှိပါစေသော။

၁၂၆

၁ ဇိအုန်သို့ ရှုပ်ထားသော မိအုန်သားတို့ကို
ထာဝရဘုရားပြန်ထားစေတော် မူသောအခါ၊ငါ
၂ တို့သည်အိပ်မက်သောသူကဲ့သို့ဖြစ်ကြ၏။- ထို
အခါ ငါတို့ နှုတ်သည် ရယ် ခြင်း နှင့် ငှင်း၊ ငါတို့
လျှာသည်သီခြင်းဆိုခြင်းနှင့်ငှင်ပြည့်ဝ၏။ထိုပါး
အမျိုးသားတို့ကလည်း၊ထာဝရဘုရားသည်သူ
တို့အဖို့ကြီးသော အမှုကိုပြုတော် မူပြီဟု ဆိုကြ
၃ ၏။-ထာဝရဘုရားသည်ငါတို့အဖို့ ကြီးသောအ
မှုကိုပြုတော်မူပြီ၊ ငါတို့သည်လည်းဝမ်းမြောက်
၄ လျက်နေကြ၏။-အိုထာဝရဘုရား၊ဖမ်းသွားရှုပ်
ထားခြင်း ကို ခံရ သော အကျွန်ုပ် တို့ကို တောင်
မျက်နှာချောင်းရေကဲ့သို့ တဖန်ပြန်ထားစေတော်
၅ မူပါ။- မျက်ရည်ကျလျက်မျိုးစေ့ကြဲသောသူတို့
သည် ရွှင်လန်းလျက်စပါး ရိတ်ကြ လိမ့်မည်။-
၆ မျက်ရည် ကျလျက် ကြဲရန် မျိုးစေ့ကို ဆောင်၍
ထွက်သွားသောသူသည်၊ကောက်လှိုင်းများကို
ဆောင်လျက် ရွှင်လန်းသော စိတ်နှင့် အမှန် ပြန်
လာလိမ့်မည်။

၁၂၇

၁ ထာဝရဘုရားသည် အိမ်ကို ဆောက်တော်မ
မူလျှင်၊ ဆောက် သော သူတို့သည် အချည်း နှီး
လုပ် ဆောင် ကြ၏၊ ထာဝရ ဘုရား သည် မြို့ကို
စောင့် တော် မ မူ လျှင်၊ ကင်း စောင့် တို့ သည် အ
၂ ချည်းနှီးစောင့်ကြ၏။- စောစောထလျက်၊ ညည့်
နက်သည်တိုင်အောင်မအိပ်ဘဲနေလျက်၊ဝမ်းပန်း

စွာအစာစားလျက် နေသော်လည်း အကျိုးမရှိ။
အိပ်ပျော် ရသော အခွင့်ကို ချစ်တော် မူသောသူ
အားအမှန်ပေးတော်မူ၏။
၃ ယောက်ျားမြင်သောသားသမီးတို့သည်ထာဝရဘုရား
ဆုချ၍၊ ပေးသနားတော် မူသော အမွေဥစ္စာဖြစ်
၄ ကြ၏။- အသက် ပျိုစဉ်၊ ယောက်ျားမြင်သောသားသမီး
တို့သည် သူရဲလက် ၌ ရှိသောမြှားကဲ့သို့ ဖြစ်ကြ
၅ ၏။- မိမိမြှားတောင့်ကို သူတို့နှင့် ပြည့်စေသော
သူသည် မင်္ဂလာ ရှိ၏။ သူတို့သည် ရှက်ကြောက်
ခြင်းမရှိ၊ရန်သူတို့ကိုတံခါးဝ၌ဆီးတားကြလိမ့်
မည်။

၁၂၈

၁ ထာဝရဘုရား ကို ကြောက်ရွံ့၍၊ လမ်းခရီး
တော်သို့ လိုက် သွား သမျှသော သူတို့သည် မင်္ဂ
၂ လာရှိကြ၏။- ထိုသို့ပြုလျှင်သင်သည် မိမိလက်
နှင့်လုပ် ဆောင်၍ ရ သော အစာကို စားရ လိမ့်
၃ မည်။မင်္ဂလာရှိ၍ကောင်းစားရလိမ့်မည်။-သင်
၏ မယားသည် သင့် အိမ် နားမှာ များစွာအသီး
သီးသော စပျစ်နွယ် ပင် ကဲ့သို့ ၎င်း၊ သားသမီးတို့
သည် သင့်စားပွဲ ပတ် လည်၌ စိုက်ပျိုးသော သံ
၄ လွင် ပင်များ ကဲ့သို့၎င်း ဖြစ်ကြလိမ့်မည်။- ထာ
ဝရဘုရားကို ကြောက် ရွံ့သော သူသည် ထိုသို့
၅ သော မင်္ဂလာ ရှိရ လိမ့် မည်။- ထာဝရ ဘုရား
သည် ဇိအုန် တောင် ပေါ်က ကောင်း ကြီး ပေး
တော်မူ၍၊ယေရုရှလင်မြို့ခံရသောကောင်းကျိုး
၆ ကိုတသက်လုံးမြင်ရလိမ့်မည်။- မိမိသားသမီးတို့
၌ ယောက်ျားမြင်သော သားသမီးတို့ကိုလည်းမြင်ရလိမ့်
မည်။ ဣသရေလ အမျိုး၌ ငြိမ်ဝပ်ခြင်း ရှိပါစေ
သော။

၁၂၉

၁ ငယ်သောအရွယ် မှစ၍၊ ကြိမ်ဖန်များစွာငါ့ကို
သူတပါးတို့သည် ညှဉ်းဆဲကြပြီ ဟူသောစကား
နှင့်ညီ၍၊ဣသရေလအမျိုးဆိုရသောစကားဟူမူ
၂ ကား။-ငယ်သောအရွယ်မှစ၍၊ကြိမ်ဖန်များစွာ
ငါ့ကိုသူတပါးတို့သည် ညှဉ်းဆဲကြပြီ။သို့သော်
၃ လည်း ငါ့ကို မနိုင်ကြ။- ထွန်သော သူတို့သည်ငါ
ကြောပေါ်မှာထွန်၍၊ရှည်သောထွန်ကြောင်းတို့
၄ ကို ဖြစ်စေ ကြ၏။- ထာဝရ ဘုရားသည် ဖြောင့်
မတ်တော်မူ၏။ မတရားသောသူတို့၏ ကြိုးတို့ကို
၅ ဖြတ်တော် မူပြီ။- ဇိအုန်မြို့ကို မုန်းသော သူအ
ပေါင်း တို့သည်ရှက်ကြောက်၍ လှန်ခြင်းကိုခံရ
၆ ကြပါစေ။-အိမ်မိုးပေါ်မှာပေါက်၍၊ အတယ်သူ
မှုမနုတ်မီ ညှိုးနွမ်းတတ်သော မြက်ပင်ကဲ့သို့
၇ ဖြစ်ကြပါစေ။- ထိုမြက်ပင်ကိုရိတ်သောသူသည်
လက်တဆုပ်မျှမရ။ စည်းသောသူလည်းလက်
၈ တနွေမျှမရ။- လမ်း၌ရှောက်သွားသော သူတို့
ကလည်း၊ ထာဝရဘုရား ပေးတော်မူသော မင်္ဂ
လာ သက်ရောက်ပါစေသော။ ထာဝရ ဘုရား၏
နာမတော်ကို အမှီပြု၍၊ သင်တို့ကို ကောင်းကြီး
ပေးကြ၏ဟုမပြောမဆိုရကြ။

၁၃၀

၁ အိုထာဝရဘုရား၊ နက်နဲရာထဲကကိုယ်တော်
၂ ကိုအကျွန်ုပ်အော်တစ်ပါ၏။-အိုထာဝရဘုရား၊
အကျွန်ုပ်၏ စကား သံကိုကြား၍၊ အကျွန်ုပ် ဆု
တောင်းပဌနာပြုသံကိုနားညောင်းတော်မူပါ။-
၃ အိုဘုရားရှင် ထာဝရဘုရား၊ ကိုယ်တော် သည်
ဒုစရိုက်အပြစ်များကိုမှတ်တော်မူလျှင်အဘယ်
၄ သူသည် ခံရပ်နိုင်ပါမည်နည်း။- ကိုယ်တော်ကို
ကြောက်ရွံ့စရာအကြောင်းရှိစေခြင်းငှါ၊အပြစ်
၅ လွှတ်ခြင်း အခွင့် ကို ပိုင် တော် မူ ၏။- ထာဝရ
ဘုရားကို ငါစောင့်လျက် နေ၏။ ငါ့ဝိညာဉ်သည်
စောင့်လျက်နေ၏။ နှုတ်ကပတ်တော်ကိုငါမျှော်
၆ လင့်၏။- နံနက်ကို မျှော်လင့်သော သူတို့ထက်မ
က၊ငါ့ဝိညာဉ်သည်ဘုရားရှင်ကို မျှော်လင့်လျက်
၇ နေ၏။- ဣသရေလ အမျိုးသည် ထာဝရဘုရား
ကိုမျှော်လင့် ပါစေ။အကြောင်းမူကား၊ ထာဝရ
ဘုရား၌ ကရုဏာ ရှိ၏။ များစွာ သော ရွေးနှုတ်
၈ ခြင်း ကျေးဇူး ရှိ၏။- ဣသရေလ အမျိုးကို ခပ်
သိမ်းသော ဒုစရိုက် အပြစ်တို့အထဲက ရွေးနှုတ်
တော်မူလိမ့်မည်။

၁၃၁

၁ အိုထာဝရဘုရား၊ အကျွန်ုပ်သည် စိတ်မမြင့်
ပါ။ မျက်နှာလည်း မမော်ပါ။ ကိုယ် နှင့် မတန်၊
၂ ကြီး မြင့် သော အမှုတို့၌ မကျင် လည် ပါ။- အ
ကယ်စင်စစ်အကျွန်ုပ်သည်အမိနို့နှင့်ကွာသော
သူငယ်ကဲ့သို့၊ ကိုယ်စိတ်ကိုဖြေ၍ငြိမ်းစေပါပြီ။
အကျွန်ုပ် စိတ်နှစ်လုံးသည် နို့ကွာသော သူငယ်
၃ ကဲ့သို့ ဖြစ်ပါ၏။- ဣသရေလ အမျိုးသည် ယခု
မှစ၍၊ ကာလ အစည်မပြတ် ထာဝရ ဘုရားကို
မျှော်လင့်ပါစေ။

၁၃၂

၁ အိုထာဝရဘုရား၊ ဒါဝိဒ်မင်းကို၎င်း၊သူခံရသ
မျှသော ဆင်းရဲ ခြင်းကို၎င်း အောင်းမေ့ တော်မူ
၂ ၃ ပါ။-ထိုမင်းက၊ယာကုပ်အမျိုးကိုးကွယ်သော

ထန်မိုး၊ ရှင် ထာဝရ ဘုရား၊ ကျိန်း ဝပ်တော် မူရာ
အရပ်ကို အကျွန်ုပ် သည် မတွေ့မှီ တိုင်အောင်၊
ကိုယ်နေရာအိမ်သို့မဝင်၊ ကိုယ်အိပ်ရာပေါ်သို့မ
တက်၊ ကိုယ်မျက်စိအိပ်ရမည်အခွင့်၊ မျက်ခမ်း
မှိတ်ရမည်အခွင့်ကိုမပေးပါဟု၊ ယာကုပ်အမျိုး
ကိုးကွယ်သောတန်ခိုးရှင်ထာဝရဘုရား၊ ထံ ကျိန်
၆ ဆို၍ မိဌာန်ပြု၏။- ထဲတော်သည် ဧဖရိမ် ပြည်
မှာ ရှိကြောင်း၊ ကိုငါတို့သည်ကြားရကြပြီ၊ ယာ
ရိမ်တော၌တွေ့ကြပြီ။- ဘုံဗိမာန်တော်သို့ ဝင်
၍၊ ခြေတော်တင်ရာခုံအောက်၌ပြပ်ဝပ်ကိုးကွယ်
၈ ကြကုန်အံ့။- အိုထာဝရဘုရား၊ ကျိန်းဝပ်တော်
မူရာသို့ဘုန်းတော်နှင့်ရှည်သောဓမ္မသစ်တာနှင့်
၉ တကူ တကဲတော်မူပါ။- ကိုယ် တော်၏ ယဇ်ပု
ရောဟိတ်တို့သည် ဖြောင့်မတ်ခြင်း တန်ဆာကို
ဆင်၍၊ ကိုယ်ကော်၏ သန့်ရှင်းသူတို့သည် ရွှင်
၁၀ လန်းစွာသီခြင်းဆိုကြပါစေသော။-ကိုယ်တော်
၏ကျွန် ဒါဝိဒ်မင်း၏မျက်နှာကို ထောက်သဖြင့်၊
ကိုယ်တော်ထံ၌ဘိသိတ်ခံသောသူကိုငြင်းပယ်
တော်မမူပါနှင့်။

၁၁ ထာဝရ ဘုရားသည် ဒါဝိဒ်အား မိဌာန် ကျိန်
ဆိုခြင်းကိုပြု၍၊ သစ္စာဖျက်တော်မမူသောစကား
ဟူမူကား၊ သင်၏အမျိုးအနွယ်ကိုသင်၏ပလ္လင်
၁၂ ပေါ်မှာငါတင်မည်။- သင်၏သားတို့သည်ငပဒို
ညည်တရားကိုငှင်၊ ငါသွန်သင်သောသက်သေ
ခံချက်ကိုငှင် စောင့်ရှောက်လျှင်၊ သူတို့၏ သား
များသည်လည်း သင်၏ပလ္လင်ပေါ်မှာအစဉ်အမြဲ
မြဲထိုင်ရ ကြလိမ့်မည်ဟု၊ သစ္စာဂတိ ထား တော်မူ
၁၃ ပြီ။-ထာဝရဘုရားသည်ဇိအုန်မြို့ကိုရွေးကောက်
၍၊ အမြဲနေတော်မူရာဘို့ အလိုတော် ရှိသည်အ
၁၄ ရာမှာ၊- ဤမြို့ကား ငါ အစဉ်အမြဲ ကျိန်းဝပ်ရာ
မြို့တည်း။ ငါအလိုရှိသည် ဖြစ်၍၊ ဤမြို့၌ငါနေ
၁၅ မည်။- သူ၏ အစာ အာဟာရကို အထူး သဖြင့်
ကောင်းကြီးပေးမည်၊ သူ၌ဆင်းရဲသားတို့ကိုဝ
၁၆ စွာ ကျွေး မည်။- သူ၏ ယဇ်ပုရောဟိတ် တို့ ကို
ကယ်တင်ခြင်း တန်ဆာကိုဆင်စေသဖြင့်၊ သူ၌
သန့်ရှင်း သူတို့သည် ရွှင်လန်းသော သီခြင်းကို
၁၇ ရွှင်လန်းစွာဆိုရ ကြလိမ့်မည်။- ထိုမြို့၌ဒါဝိဒ်၏
ဦးချိုကို ငါ ပေါက် စေမည်၊ ငါ ထံ၌ ဘိသိတ် ခံ
၁၈ သောသူအို မီးခွက်ကိုငါပြင်ဆင်ပြီ။- ထိုအရှင်
၏ ရန်သူများ ကို ရှက် ကြောက် ခြင်း နှင့် ငါ ဝတ်
ဆင်မည်၊ သူ၏ ဦးရစ်သရဖူ သည် ဘုန်း ပွင့်
လျှက်ရှိလိမ့်မည်ဟုသစ္စာဂတိတော်ရှိ၏။

၁၃၃

ညီအစ်ကို တို့သည် သဘောတူလျှက် ပေါင်း
ဖော်ကြသည်အရာမှာအဘယ်မျှလောက်ကောင်း၏၊ အ
၂ ဘယ်မျှ တင့်တယ် ပျော်ပတ် ပေ၏။- အာရုန်၏
ခေါင်းပေါ်မှာလောင်းလျှက်၊ သူ၏ မုတ်ဆိတ်သို့စီး
၍၊ ထည်စွပ်တိုင်အောင်ကျသောနံ့သာဆီကဲ့သို့
၃ ဖြစ်၏။- ဟေရမုန်တောင်နှင့် ဇိအုန်တောင်များ
ပေါ်သို့ ကျသော နှင်းကဲ့သို့ ဖြစ်၏၊ ထိုသို့နေကြ
သောအရပ်၌၊ ထာဝရဘုရားသည်အစဉ်အမြဲ
အသက် ရှင်ခြင်းအခွင့်တည်းဟူသော ကောင်း
ကြီးမင်္ဂလာကိုမိန့်ရင်တော်မူ၏။

၁၃၄

၁ ထာဝရဘုရား၏ အိမ်တော်၌ ညဉ့်ယံစောင့်
သောထာဝရ ဘုရား၏ ကျွန်တော် အပေါင်းတို့၊
ထာဝရဘုရားကို ကောင်းကြီး ပေးကြ လော့။-
၂ သန့်ရှင်းရာဌာနတော်သို့ လက်ကိုချီ၍၊ ထာဝရ
၃ ဘုရားကို ကောင်းကြီးပေးကြလော့။- ကောင်း
ကင်နှင့်မြေကြီးကိုဖန်ဆင်းတော်မူသောထာဝရ
ဘုရားသည်ဇိအုန်တောင်ပေါ်က၊ သင့်ကိုကောင်း
ကြီးပေးတော်မူပါစေသော။

၁၃၅

၁ ထာဝရဘုရား၏ နာမ တော် ကို ချီး မွမ်း ကြ
၂ လော့၊-ထာဝရဘုရား၏အိမ်တော်၊ ငါတို့ဘုရား
သခင်၏ အိမ်တော် တန်တိုင်း တွင် အမှု စောင့်
သောထာဝရဘုရား၏ကျွန်တော်တို့၊ ချီးမွမ်းခြင်း
၃ ကိုပြု ကြလော့၊- ထာဝရဘုရားသည် ကောင်း
မြတ်တော်မူသောကြောင့်၊ ထာဝရဘုရားကိုချီး
မွမ်းကြလော့၊ နာမတော်ကို ထောမနာ သီခြင်း
ဆိုကြလော့၊ ထိုသို့သော အမှုသည် တင့်တယ်
၄ ပျောက်ပတ်ပေ၏၊-အကြောင်းမူကား၊ ထာဝရ
ဘုရားသည်ယာကုပ်အမျိုးကို ကိုယ်တော်အဖို့
ငှင်၊ ဣသရေလ အမျိုးကို ဥစ္စာ တော် ဖြစ်စေ
ခြင်းငှါငှင်ရွေးကောက်တော်မူပြီ။
၅ ထာဝရဘုရားသည် ကြီးတော် မူကြောင်း၊ ငါ
တို့၏ဘုရားရှင်သည်ဘုရားတကာတို့ထက်မြတ်
၆ တော် မူ ကြောင်း ကို ငါ သိ ၏။- ထာဝရ ဘုရား
သည်ကောင်းကင်၊ မြေကြီး၊ သမုဒ္ဒရာ၊ နက်နဲရာ
အရပ်ရပ်တို့၌ အလိုတော်ရှိသမျှတို့ကို ပြုတော်
၇ မူ၏။- မြေကြီးစွန်းမှမိုဃ်းတိမ်တို့ကို တက်စေ
တော်မူ၏၊ မိုဃ်းနှင့်တကွလျှပ်စစ်ကို ဖန်ဆင်း
တော်မူ၏၊ သဘ္ဘာတော်တိုက်ထဲကလေကိုထုတ်
၈ တော်မူ၏၊- အဲဂုတ္တုပြည်၌ လူမှစ၍ တိရိစ္ဆာန်

ထိုင်ဆောင်းသားဦးမှစသောသူတို့ကိုဖါထ်ခတ်တော်
၉ မူ၏။- ထိုအဲဂုတ္တုပြည်၊ သင်၏အထဲမှာအံ့ဩရာ
မင်းမှစ၍၊ သူ၏ကျွန် အပေါင်း တို့၏ အပေါ်သို့
ထကျွဏာသက်သေ၊ထူးဆန်းသောအမှုတို့ကိုစေ
၁၀ လွှတ်တော်မူ၏။- အာမောရိပြည်ကို အစိုးရ
၁၁ သော ရှိဟုန်မင်း၊ ဗာရှန်ပြည်ကို အစိုးရသော
ဩဃမင်းနှင့် တကွ၊ ဘုန်းကြီးသော ရှင်ဘုရင်
များကိုကွပ်မျက်၍၊များပြားသောလူမျိုးနှင့်တ
ကွ၊ ခါနာန်ထိုင်းနိုင်ငံအပေါင်းတို့ကိုလုပ်ကြံသ
၁၂ ဖြင့်- သူတို့နေရာမြေကိုခွဲ၍၊ မိမိလူဣသရေလ
၁၃ အမျိုးအား အမွေကို ပေးချတော်မူ၏။- အိုထာ
ဝရဘုရား၊ ကိုယ်တော်၏အမည်သည် နိစ္စထာ
ဝရဖြစ်ပါ၏။ အိုထာဝရဘုရား၊ အောက်မေ့တော်
၁၄ သည်ကာလအစဉ် အဆက်တည် ပါ၏။- ထာ
ဝရဘုရားသည်မိမိကျွန်တို့၏ အတွက် နောင်တ
ရ၍၊မိမိလူစုအတွက်မှာတရားစီရင်တော်မူ၏။
၁၅ သာသနာပ လူတို့ ကိုးကွယ် သော ရုပ်တု တို့
ကားငွေလည်းဖြစ်၏၊ရွှေလည်းဖြစ်၏၊ လူလက်
၁၆ ဖြင့် လုပ်သော အရာ ပေ တည်း။- ထိုရုပ်တု တို့
သည်နှုတ်ရှိ၍စကားမပြောတတ်၊ မျက်စိရှိ၍မ
၁၇ မြင်တတ်။- နားရှိ၍ မကြားတတ်၊ သူတို့ပစပ်၌
၁၈ လည်းထွက်သက်ဝင်သက်မရှိပါတကား။-လုပ်
သောသူတို့သည်းအတူတူ၊ ကိုးစားသောသူအ
၁၉ ပေါင်းတို့သည်း အတူတူပါတကား။- အိုဣသ
ရေလအမျိုး၊ ထာဝရဘုရားကိုကောင်းကြီးပေး
ကြလော့။ အိုအာရုန်အမျိုးအနွယ်၊ ထာဝရဘုရား
၂၀ ကို ကောင်းကြီး ပေးလော့။- အိုလေဝိ အမျိုးအ
နွယ်၊ ထာဝရဘုရားကိုကောင်းကြီးပေးလော့၊
ထာဝရဘုရားကိုကြောက်ရွံ့သောသူတို့၊ ထာဝ
၂၁ ရဘုရားကိုကောင်းကြီးပေးကြလော့။- ယေရုရှ
လင်မြို့မှာ ကျိန်းဝပ်တော်မူသော ထာဝရဘုရား
သည်ဇိအုန်တောင်ပေါ်မှာ မင်္ဂလာရှိတော်မူစေ
သတည်း။ ဟာလေလုယာ။

၁၃၆

၁ ထာဝရဘုရားသည် ကောင်းမြတ်တော်မူ၍၊
ကရုဏာတော်အစဉ်အမြဲတည်သောကြောင့်၊
၂ ဂုဏ်ကျေးဇူးတော်ကိုချီးမွမ်းကြလော့။-ဘုရား
တို့၏အရှင်၊ဘုရားသခင်၏ကရုဏာတော်အစဉ်
အမြဲ တည် သောကြောင့်၊ ဂုဏ်ကျေးဇူးတော်
၃ ကိုချီးမွမ်းကြလော့။- အရှင်တို့၏သခင်၊ဘုရား
ရှင်၏ ကရုဏာ တော် အစဉ် အမြဲ တည်သော
ကြောင့်၊ ဂုဏ် ကျေး ဇူး တော် ကို ချီး မွမ်း ကြ
၄ လော့။- ကရုဏာတော်အစဉ်အမြဲတည်သည်
ဖြစ်၍၊ထူးဆန်းသောအမှုတို့ကိုတပါးတည်းသော
၅ ပြုတော်မူထသော၊-ကရုဏာတော်အစဉ်အမြဲ
တည်သည်ဖြစ်၍၊ ပညာတရားအထိုင်အကောင်း
၆ ကင်ကို ဖန်ဆင်းတော် မူ ထ သော၊- ကရုဏာ
တော်အစဉ်အမြဲတည်သည်ဖြစ်၍၊ ရေပေါ်မှာ
၇ မြေကြီးကိုဖြန့်တော်မူထသော၊-ကရုဏာတော်
အစဉ်အမြဲတည်သည်ဖြစ်၍၊အလင်းထိန်ကြီး
၈ တို့ကိုဖန်ဆင်းတော်မူထသော၊- ကရုဏာတော်
အစဉ် အမြဲ တည်သည် ဖြစ်၍၊ နေ့ကို အုပ်စိုး
၉ ရသောနေကိုငှင်- ကရုဏာတော် အစဉ် အမြဲ
တည်သည်ဖြစ်၍၊ ညဉ့်ကို အုပ်စိုးရသော လ
နှင့်ကြယ်များကိုငှင် ဖန်ဆင်းတော်မူထသော၊-
၁၀ ကရုဏာတော် အစဉ်အမြဲ တည်သည် ဖြစ်၍၊
အဲဂုတ္တုပြည်မှာသားဦးများကိုဖါထ်ခတ်တော်
၁၁ မူထသော၊- ကရုဏာတော် အစဉ်အမြဲတည်
၁၂ သည် ဖြစ်၍၊ အားကြီးသော လက်၊ ဆန့်သော
လက်ရုံးတော်ကို လက်နက်ပြုတော်မူထသော၊-
ကရုဏာတော်အစဉ်အမြဲတည်သည်ဖြစ်၍၊ဣ
သရေလအမျိုးကို အဲဂုတ္တုပြည်သားတို့အထဲက
၁၃ ထုတ်ဆောင်တော်မူထသော၊- ကရုဏာတော်
အစဉ်အမြဲတည်သည်ဖြစ်၍၊ ဧဒုံပင်လယ်ကို
၁၄ အပိုင်းပိုင်း ခွဲတော်မူထသော၊- ကရုဏာတော်
အစဉ်အမြဲတည်သည်ဖြစ်၍၊ပင်လယ်အထဲ
၌ ဣသရေလ အမျိုးကို ရှောက်သွားစေတော်မူ
၁၅ ထ သော၊- ကရုဏာ တော် အစဉ် အမြဲ တည်
သည်ဖြစ်၍၊ ဖာရောမင်းနှင့်ဗိုလ်ခြေများကိုဧဒုံ
၁၆ ပင်လယ်ထဲ၌ ဖျက်ဆီးတော် မူ ထသော၊- ကရု
ဏာတော်အစဉ်အမြဲတည်သည်ဖြစ်၍၊ မိမိလူ
၁၇ စုကိုတောထဲ၌ပို့ဆောင်တော်မူထသော၊-ကရုဏာ
တော်အစဉ်အမြဲတည်သည်ဖြစ်၍၊ ကြီးသော
၁၈-၂၀ ဘုရင်တို့ကိုဖါထ်ခတ်တော်မူထသော၊-ကရု
ဏာတော် အစဉ်အမြဲတည်သည်ဖြစ်၍၊ အာ
မောရိပြည်ကို အစိုးရသော ရှိဟုန်မင်းကိုငှင်၊
ကရုဏာ တော် အစဉ်အမြဲ တည်သည်ဖြစ်၍၊
ဗာရှန်ပြည်ကို အစိုးရသော ဩဃ မင်းကိုငှင်၊
ကရုဏာတော် အစဉ်အမြဲ တည်သည် ဖြစ်၍၊
ဘုန်းကြီးသော ဘုရင်များကိုငှင် လုပ်ကြံတော်
၂၁ မူထသော၊- ကရုဏာတော်အစဉ် အမြဲတည်
သည် ဖြစ်၍၊ သူတို့ နေရာ မြေကို ခွဲ တော် မူ ထ
၂၂ သော၊- ကရုဏာတော်အစဉ်အမြဲတည်သည်
ဖြစ်၍၊ မိမိကျွန်ဣသရေလအမျိုးအားအမွေကို

၂၃ ပေးတော်မူထသော၊- ကရုဏာတော်အစဉ်
အမြဲတည်သည်ဖြစ်၍၊ နှိမ့်ချလျက်နေသောငါတို့
၂၄ ကို အောက်မေ့တော်မူထသော၊- ကရုဏာတော်
အစဉ် အမြဲ တည်သည်ဖြစ်၍၊ ငါတို့ကို ရန်သူ
၂၅ တို့အထဲကကျွေးနှုတ်တော်မူထသော၊- ကရုဏာ
တော် အစဉ် အမြဲ တည်သည် ဖြစ်၍၊ ခပ်သိမ်း
သော သတ္တဝါ တို့ကို ကျွေး မွေး တော် မူ သော-
၂၆ ကောင်းကင်ဘုံ၏ အရှင်ဘုရားသခင်၏ကရုဏာ
တော် သည် အစဉ် အမြဲ တည် သော ကြောင့်၊
ဂုဏ်ကျေးဇူးတော်ကိုချီးမွမ်းကြလော့။

၁၃၇

၁ ဗာဗုလုန်မြစ်ထိုအနားမှာ ငါတို့သည်ထိုင်၍၊
၂ ဇိအုန်မြို့ကိုအောင်းမေ့လျက်ငိုကြွေးကြ၏၊- ငါ
တို့စောင်းများကိုလည်း၊ ထိုအရပ်တွင်ရှိသော မ
၃ ပင်တို့၌ဆွဲထားကြ၏၊- အကြောင်းမူကား၊ ထို
အရပ် ၌ ငါတို့ကို ဖမ်းသွား၍ ချုပ် ထား သော သူ
နှင့်၊ ငါတို့ကို ညှဉ်းဆဲသောသူတို့က၊ ဇိအုန်သီ
ချင်းကို ငါ တို့အား ဆိုကြလော့ဟု၊ သီချင်း ဆို
သံကိုငှင်၊ ရွှင်လန်းသော အသံ ကို ငှင် ငါ တို့၌
၄ တောင်းကြပါသည်တကား၊- တကျွန်းတပိုင်း၌
ထာဝရဘုရား၏သီချင်းကို အဘယ်သို့ ဆိုရပါ
၅ မည်နည်း။- အို ယေရုရှလင်မြို့၊ သင့်ကို ငါမေ့
လျှင် ငါ့လက်ျာလက်သည် မိမိအတတ်ကို မေ့ပါ
၆ စေ၊- သင့်ကိုငါမအောင်းမေ့၊ အမြတ်ဆုံးသော
ဝမ်းမြောက်ခြင်းအကြောင်းထက်၊ ယေရုရှလင်
မြို့ကိုအမြတ်မထားလျှင်၊ လျှာသည်အာခေါင်
၌ကပ်ပါစေ။
၇ အို ထာဝရဘုရား၊ ယေရုရှလင်မြို့၏ ဒုက္ခရောက်
အချိန် ရောက်သော အခါ၊ မြို့ရိုးကိုအမြစ် ထိုင်
အောင် ရှင်းလိုက်ကြ၊ ရှင်းလိုက်ကြဟု၊ ဆိုကြ
သော ဧဒုံ အမျိုးသား တို့ကို အောင်းမေ့တော်မူ
၈ ပါ။- ဖျက်ဆီး တတ်သော ဗာဗုလုန် မင်းသမီး၊
ထင်သည်ငါတို့၌ပြုသည်အတိုင်း၊ သင်၌အပြစ်
၉ ကို ဆပ်ပေးသောသူသည် မင်္ဂလာရှိ၏၊- သင်၏
သူငယ်တို့ကိုကိုင်ယူ၍၊ကျောက်ပေါ်မှာဆောင့်
သောသူသည်မင်္ဂလာရှိ၏။

၁၃၈

၁ အိုထာဝရဘုရား၊ ကိုယ်တော်ကို မိတ်နှစ်လုံး
အကြွင်းမဲ့ အကျွန်ုပ် ချီးမွမ်းပါမည်၊ အခြားသော
ဘုရားတို့ရှေ့မှာ ကိုယ်တော်ကို ထောမ
၂ နာ သီချင်းဆိုပါမည်၊- သန့်ရှင်းသော ဗိမာန်
တော်သို့ မျက်နှာ ပြုလျက် ပြပ်ဝပ် ကိုးကွယ်၍၊
ကရုဏာတော်နှင့်သစ္စာတော်ကြောင့်နာမတော်
ကို ချီး မွမ်း ပါ မည်၊ အကြောင်း မူ ကား၊ ဂုဏ်
တော်ကို သိတင်းတော် ရှိသမျှထက် ချီးမြှောက်
၃ တော်မူပြီ၊- အကျွန်ုပ် အော် ဟစ်သော နေ့တွင်
နားထောင် တော် မူ ၍၊ မိတ် ဝိညာဉ် ထဲသို့ ခွန်
အားကိုသွင်းသဖြင့်၊အကျွန်ုပ်ကိုမိုင်မာစေတော်
၄ မူ၏၊- အိုထာဝရဘုရား၊ လောကီရှင်ဘုရင် အ
ပေါင်းတို့ သည် နှုတ် တော် ထွက် စကား တို့ကို
ကြားရသည်ဖြစ်၍၊ဂုဏ်တော်ကိုချီးမွမ်းကြပါ
၅ လိမ့်မည်၊- ထာဝရဘုရား၏ ထုံးစံရိုးတော်ထို
၌လိုက်၍၊သီချင်းဆိုကြပါလိမ့်မည်၊အကြောင်း
မူကား၊ ထာဝရဘုရား၏ သည် ဘုန်း ကြီး တော်မူ
၆ ၏၊- ထာဝရဘုရားသည် မြင့်မြတ်တော်မူသော်
လည်း၊ စိတ်နှိမ့်ချသောသူတို့ကို ကြည့်ရှုတော်
မူ၏၊ မိတ်မြင့်သောသူတို့ကိုကား၊ အဝေးက သိ
၇ တော် မူ၏၊- အကျွန်ုပ်သည် ဆင်းရဲ ဒုက္ခများ၌
ကျင် လည်သော် လည်း၊ ကိုယ်တော် သည် အ
ကျွန်ုပ်ကိုအသက်ရှင်စေတော်မူလိမ့်မည်၊ထီ
တော်ကို ဆန့်လျက်၊ ရန်သူတို့၏ အမျက် ဒေါသ
ကိုဆီးတား၍၊ လက်ျာ လက်တော်အားဖြင့် အ
၈ ကျွန်ုပ်ကိုကယ်တင်တော်မူလိမ့်မည်၊- ထာဝရ
ဘုရားသည် ငါ၏အမှုကိုပြီးစီးစေတော်မူမည်။
အိုထာဝရဘုရား၊ ကရုဏာတော်သည် အစဉ်
အမြဲ တည်ပါသည်ဖြစ်၍၊ ကိုယ်တော်၏ လက်
နှင့်ပြုသောအမှုတို့ကို စွန့်ပြစ်တော်မမူပါနှင့်။

၁၃၉

၁ အိုထာဝရဘုရား၊ ကိုယ်တော်သည်အကျွန်ုပ်
၂ ကိုစစ်ကြော၍သိတော်မူ၏၊- အကျွန်ုပ်ထိုင်ခြင်း၊
ထခြင်း အရာတို့ကို သိတော်မူ၏၊ အကျွန်ုပ်အ
ကြံအစည်တို့ကိုအဝေးကပင် နားလည်တော်မူ
၃ ၏၊-အကျွန်ုပ်သွားသောလမ်းကိုငှင်၊အိပ်ရာကို
ငှင်စစ်ဆေး၍၊ အကျွန်ုပ် ကျင့်သော အကျင့်အ
၄ လုံး စုံ တို့ကို ကျွမ်း တော် မူ၏၊- အကျွန်ုပ် သည်
စကားတခွန်းကိုမျှ မမြွက်သော်လည်း၊ အိုထာ
ဝရဘုရား၊ကိုယ်တော်သည်အကြွင်းမဲ့သိတော်
၅ မူ၏၊- ကိုယ်တော်သည်အကျွန်ုပ်ကို ပတ်လည်
ဝိုင်းထား၍၊ အကျွန်ုပ်အပေါ်မှာ လက်တော်ကို
၆ တင်တော် မူပြီ၊- ထိုသို့သော ဉာဏ်သည် ဖွဲ့
ခြောဖွယ်ဖြစ်၍၊ အကျွန်ုပ် မတတ်နိုင်ပါ၊ မြင့်
၇ မြတ်သည်ဖြစ်၍ အကျွန်ုပ် မမှီနိုင်ပါ၊- ဝိညာဉ်
တော်နှင့် လွတ်ခြင်းငှာ အဘယ် အရပ်သို့
သွားနိုင်ပါမည်နည်း၊ မျက်နှာတော်နှင့် လွတ်

ခြင်း၊အလို၄ါ အထယ်အရပ်သို့ ပြေးနိုင်ပါမည်
နည်း။– ကောင်းကင်သို့တက်လျှင်ကိုယ်တော်ရှိ
တော်မူ၏၊ မရဏာနိုင်ငံ၌ အိပ်ရာကို ခင်းလျှင်
၉ ကိုယ်တော် ရှိတော်မူ၏။– နံနက်အတောင်တို့ကို
၁၀ ယူ၍ သမုဒ္ဒရာ စွန်း၌ နေ လျှင်– ထိုအရပ်၌ ပင်
ကိုယ်တော်၏ လက်သည် အကျွန်ုပ်ကို ပို့ဆောင်
လျက်၊ လက်ျာလက်တော်သည်ကိုင်လျက်ရှိပါ
၁၁ လိမ့်မည်။– အကယ်၍ မှောင်မိုက်သည် ငါ့ကိုဖုံး
အုပ်မည်ဟု တဲဖန်ဆိုလျှင်၊ ညည့်သည်လည်း
အကျွန်ုပ် ပတ် ဝန်း ကျင်၌ အလင်း၊ ဖြစ် ပါ လိမ့်
၁၂ မည်။– အကယ်စင်စစ်မှောင်မိုက်သည်ရှေ့တော်
၌ အဘယ်အရာ ကိုမျှ မဖုံး နိုင်ပါ၊ ညည့် သည်
နေ့ ကဲ့သို့ လင်းပါ၏၊ မှောင်မိုက် သဘောနှင့် အ
လင်းသဘောသည်တူပါ၏။

ကိုယ်တော်သည်အကျွန်ုပ်၏ကျောက်ကပ်ကို
ပင်ဖန်ဆင်း၍၊ အမိ ဝမ်း ထဲမှာ အကျွန်ုပ် ကို ဖုံး
၁၃ အုပ် တော်မူပြီ။– အကျွန်ုပ်သည် ကြောက်မက်
ဖွယ်သောလက္ခဏာ၊ ထူးဆန်းသောလက္ခဏာ
တို့နှင့်ပြည့်စုံသည်ဖြစ်၍၊ကိုယ်တော်ကိုချီးမွမ်း
ပါ မည်။ ပြု ပြင် တော် မူသော အမှု တို့ သည် အံ့
ဩဖွယ် ဖြစ် ကြောင်း ကို၊ အကျွန်ုပ် ၏ စိတ်
၁၄ ပိညည်သည် အမှန်သိပါ၏။– မထင်ရှားသော
အရပ်၌အကျွန်ုပ်ကိုဖန်ဆင်း၍၊မြေကြီးအောက်
အရပ်၌ ချေစပ်စွာပြုပြင်တော် မူသောအခါ၊ အ
ကျွန်ုပ်၏ ကိုယ် ခန္ဓာ သည် ရှေ့ တော်၌ ထင်ရှား
၁၅ လျက်ရှိပါ၏။– မစုံလင်သေးသောအကျွန်ုပ်၏အ
လုံးအထွေးကိုလည်းကိုယ်တော်သည် ကြည့်ရှု
၍မြင်တော်မူပြီ။ထိုအရာတို့ကိုပြုပြင်၍တစုံတခု
မျှမရှိမှီ ကာလတွင်၊ ကိုယ်တော်၏ စာရင်း၌ အ
၁၆ ကုန်အစင်မှတ်သားလျက်ရှိကြပါ၏။– အိုဘုရား
သခင်၊အကျွန်ုပ်၌ကိုယ်တော်၏အကြံအစည်တို့
သည်အလွန်ထူးဆန်းကြပါ၏။အလွန်များပြား
၁၇ ကြပါ၏။– ထိုအကြံအစည်တော်တို့ကို ရေတွက်
လျှင်၊သဲလုံးနှင့်အမျှမကသာ၍ များပြားကြပါ
၏။အကျွန်ုပ်သည်နိုးသောအခါ ကိုယ်တော်ထံ၌
အစည်ရှိပါ၏။
၁၉ အိုဘုရား သခင်၊ ကိုယ်တော် သည် မတရား
သောသူတို့ကို ကွပ်မျက်တော် မူပါစေသော၊ လူ
အသက်ကို သတ်တတ်သော သူတို့၊ ငါ့ထံမှဖယ်
၂၀ သွားကြ။– ထိုသူတို့သည်ကိုယ်တော်တဖက်၌မ
နာလိုသော စိတ်နှင့် ပြော ဆို၍၊ ကိုယ် တော်၏
ရန်သူတို့သည်မတရားသဖြင့်ဝါကြွားကြပါ၏။–
၂၁ အိုထာဝရဘုရား၊ကိုယ်တော်ကိုမုန်းသောသူတို့
ကိုအကျွန်ုပ်မုန်းပါသည်မဟုတ်လော။အာဏာ
တော်ကို ဆန်သော သူတို့ကို အကျွန်ုပ် ရွံရှာပါ
၂၂ သည်မဟုတ်လော။– ထိုသူတို့ကို စိတ်နှစ်လုံးအ
ကြွင်းမဲ့ မုန်းပါ၏၊ ကိုယ်ရန်သူကဲ့သို့မှတ်ပါ၏။–
၂၃ အို ဘုရား သခင်၊ အကျွန်ုပ် ကို စစ်ကြော၍၊ အ
ကျွန်ုပ်၏ နှစ်လုံးကို သိမှတ် တော် မူပါ။ စုံစမ်း၍
စိတ် အထင်များကိုလည်း သိမှတ် တော် မူပါ။–
၂၄ ဆိုးသောလမ်းသို့ အကျွန်ုပ်လိုက်သည်မလိုက်
သည်ကိုကြည့်ရှု၍၊ ထာဝရ လမ်းထဲသို့ သွေး
ဆောင်တော်မူပါ။

၁၄၀

၁ အိုထာဝရဘုရား၊ ဆိုးသော သူ၏ လက်မှအ
ကျွန်ုပ်ကို ကယ် နှုတ် တော် မူ ပါ။ ကြမ်း တမ်း
သောသူ၏လက်မှ အကျွန်ုပ်ကိုကွယ်ကာစောင့်မ
၂ တော်မူ ပါ။– ထို သူ တို့ သည် နှစ် လုံး ထဲ မှာ မ
ကောင်းသောအကြံအစည်ရှိ၍၊ စစ်မှုကိုအစည်
၃ နှိုးဆော်ကြပါ၏။– သူတို့သည်မြွေကဲ့သို့ မိမိတို့
လျှာကိုသွေးတတ်ကြပါ၏။သူတို့နှုတ်ခမ်းအထဲ
၄ မှာမြွေဆိုး အဆိပ်အတောက် ရှိပါ၏။– အိုထာ
ဝရဘုရား၊ မတရားသောသူ၏ လက်မှအကျွန်ုပ်
ကို ကွယ်ကာ စောင့် မ တော် မူ ပါ။ ကြမ်း တမ်း
သောသူ၏ လက်မှ ကွယ်ကာ စောင့်မတော် မူပါ။
သူတို့သည် အကျွန်ုပ်ကို လှည်းခြင်း၄ါ ကြံ စည်
၅ ကြပါ၏။– မာနကြီးသော သူတို့သည် အကျွန်ုပ်
အိုကျော့ကွင်းနှင့် ကြိုးသေးများကိုဝှက်ထားကြ
ပါ၏။ အကျွန်ုပ်သွားရာလမ်း၌ ကွန်ရက်ကိုဖြန့်
၆ ၍ သွတ် များ ကို ထား ကြ ပါ ၏။– ကိုယ် တော်
သည်အကျွန်ုပ်၏ ဘုရားသခင် ဖြစ်တော်မူ၏ဟု၊
ထာဝရဘုရားအား လျှောက်ထားပါ၏။ အိုထာ
ဝရဘုရား၊ အကျွန်ုပ်ဆုတောင်းသော စကားကို
၇ နား ထောင် တော် မူပါ။– အို ဘုရား ရှင် ထာဝရ
ဘုရား၊ ကိုယ်တော်သည် အကျွန်ုပ်၏ကယ်တင်
ခြင်း အစွမ်း သတ္တိ ဖြစ်တော် မူ၏။ စစ် တိုက်ရ
သောနေ့၌အကျွန်ုပ်၏ဦးခေါင်းကိုဖုံးအုပ်တော်
မူ၏။
၈ အိုထာဝရဘုရား၊ မတရား သောသူ၏ အလို
ပြည့်စုံရသော အခွင့်၊ သူ၏ အကြံ ထမြောက်ရ
၉ သောအခွင့်ရှိစေတော်မမူပါနှင့်။– ထိုသို့သောသူ
တို့သည်အကျွန်ုပ်ပတ်လည်၌၊ မိမိတို့ဦးခေါင်း
ကို မ ချီး မြှောက် ရ အဲ၊ မိမိတို့ နှုတ် ဆို သောမ
ကောင်း ကျိုး သည် မိမိ တို့ ကို ဖုံး မိုး ပါ စေ

၁၀ သော။– မီး ခဲ ထို့ သည် ထိုသူ တို့ အပေါ်သို့ ကျ
ရောက် ကြပါစေသော။ မီးထဲသို့၎င်း၊ နက်သော
တွင်းထဲ သို့၎င်းကျကြပါစေသော။ တဖန်မထကြ
၁၁ ပါစေနှင့်။– ကဲ့ရဲ့တတ်သောသူသည်မြေပေါ်မှာ
နေရာမမြဲ ပါစေနှင့်။ ကြမ်းတမ်း သော သူ ကို
လည်း ဖျက်ဆီးသည် တိုင်အောင် ဘေး ဥပါဒ်
၁၂ သည် လိုက်ပါစေသော။– ထာဝရဘုရား သည်
ဆင်းရဲသော သူ၏ အမှုကို စောင့်၍၊ ငတ်မွတ်
သောသူအဘက်၌ တရား စီရင်တော်မူမည်ဟု ငါ
၁၃ သိ၏။– အကယ်စင်စစ် တရားသော သူတို့သည်
နာမတော်ကို ချီးမွမ်း ကြပါ လိမ့်မည်။ သဘော
ဖြောင့်သောသူတို့သည် အထံတော်၌နေရကြပါ
လိမ့်မည်။

၁၄၁

၁ အိုထာဝရ ဘုရား၊ ကိုယ်တော်ကို အကျွန်ုပ်
အော်ဟစ်ပါ၏။ အလျင်အမြန်ကြွလာတော်မူပါ။
ကိုယ်တော်ကိုအော်ဟစ်သောအခါ၊ အကျွန်ုပ်၏
၂ စကားသံကိုနားထောင်တော်မူပါ။– အကျွန်ုပ်၏
ပဌနာသည် မီးရှို့သော နံ့သာ ပေါင်း ကဲ့သို့ ၎င်း၊
အထက်ကိုချီခြင်းသည် ညဦးယံ ပူဇော်သကာကဲ့
သို့၎င်း၊ ရှေ့တော်၌ ပွင့်လင်းလျက်ရှိပါစေသော။–
၃ အိုထာဝရဘုရား၊ အကျွန်ုပ်၏နှုတ်ရှေ့မှာ ကင်း
ကိုထားတော်မူပါ။ အကျွန်ုပ်၏ နှုတ်ခမ်းတံခါး
၄ ကိုစောင့်တော်မူပါ။–ဒုစရိုက်ကိုပြုသောသူတို့နှင့်
အတူအကျွန်ုပ်ပါ၍၊မတရားသောအမှု၊ဒုစရိုက်
အမျိုးမျိုး၌ ကျင်လည် စေခြင်းငှါ၊ အကျွန်ုပ် ၏
စိတ် နှစ် လုံး ကို မ ကောင်း သော အမှု အရာ သို့
သွေးဆောင်တော် မမူပါနှင့်။ ထိုသူတို့၏ ခဲဖွယ်
၅ စားဖွယ်တို့ကိုအကျွန်ုပ်မစားပါစေနှင့်။–ဖြောင့်
မတ်သောသူသည် အကျွန်ုပ်ကိုဒဏ်ခတ်ပါစေ
သော။ ကျေးဇူးရှိပါလိမ့်မည်။ ဆုံးမပါစေသော။
အကျွန်ုပ် ဦးခေါင်းကို လိမ်းသောဆီဖြစ်ပါလိမ့်
မည်။ ထပ်၍ ပြုသော်လည်း အကျွန်ုပ် ငြင်းပါ။
ထိုမှုကား၊ သူတပါးပြုသောအဓမ္မအမှုတခက်
၆ ၌ဆုတောင်းရပါ၏။–သူတို့၏အကဲအမှူးတို့သည်
ကျောက်တွင်းနားမှ လွှတ်၍၊ အကျွန်ုပ်၏ စကား
ကိုကြားရ ကြပါ၏။ ထိုစကား လည်း ချိုပါ၏။–
၇ မြေပေါ်မှာ ထင်းကိုခုတ်၍ ခွဲသကဲ့သို့၊ မရဏာ
နိုင်ငံတံခါးဝမှာအကျွန်ုပ်တို့၏အရိုးများတို့သည်
၈ ကွဲပြားလျက် ရှိကြပါ၏။– အိုဘုရားရှင်ထာဝရ
ဘုရား၊ကိုယ်တော်ကိုအကျွန်ုပ်မျှော်ကြည့်ပါ၏။
ကိုယ်တော်၌ခိုလှုံပါ၏၊ အကျွန်ုပ်၏အသက် ကို

၉ သွန်ပြစ်စေတော်မမူပါနှင့်။–အကျွန်ုပ်ဖို့ထောင်
ထား ကြသော ကျော့ကွင်းမှ၎င်း၊ ဒုစရိုက်ကို ပြု
သောသူတို့၏ ညွှတ်မှ၎င်း၊ အကျွန်ုပ်ကို လွှတ်စေ
၁၀ တော်မူပါ။–ထိုသို့အကျွန်ုပ်သည်လွန်သွားသော
အခါ၊ မတရားသောသူအပေါင်းတို့သည် မိမိတို့
ကျော့ကွင်းထဲသို့ကျကြပါစေသော။

၁၄၂

၁ ငါသည်ထာဝရဘုရားထံသို့ အသံကို ဖွင့်၍
အော်ဟစ်၏။ ငါ့အသံကိုထာဝရဘုရားထံသို့ဖွင့်
၂ ၍ဆုတောင်းပဌနာပြု၏။–ရှေ့တော်၌မြည်တမ်း
သောစကားကိုမြွက်၍၊ ခံရသောဆင်းရဲဒုက္ခကို
၃ ကြား လျှောက်ရ၏။– အကျွန်ုပ် သည် စိတ်ပျက်
လျက် ရှိသောအခါ၊ အကျွန်ုပ် သွားသောလမ်း
ကိုကိုယ်တော်သိတော်မူ၏။ အကျွန်ုပ်သွားသော
လမ်း၌ ကျော့ ကွင်း ကို ဖုက် ထား ကြ ပါ ပြီ။–
၄ လက်ျာဘက်သို့ အကျွန်ုပ် ကြည့်ရှုသော အခါ၊
အကျွန်ုပ်သိကျွမ်းသောသူမရှိပါ။ ပြေးလွတ်ရာ
လမ်းလည်းပိတ်ပါ၏။ အကျွန်ုပ်အသက်ကိုနှမြော
၅ သောသူ မရှိပါ။– အိုထာဝရဘုရား၊ ကိုယ်
တော်ကိုအော်ဟစ်ပါ၏။ အသက်ရှင်သောသူတို့
၏နေရာ၌ကိုယ်တော်သည်အကျွန်ုပ်ခိုလှုံရာ၊ အ
၆ ကျွန်ုပ်ခံစားရာအဖို့ဖြစ်တော်မူ၏။– အလွန်နှိမ့်ချ
လျှယ်နေသောအကျွန်ုပ်၏ ကျွန်ုပ်ကြော်သံကိုနား
ထောင်တော်မူပါ။ အကျွန်ုပ်ကို ညှဉ်းဆဲ သော
သူတို့လက်မှ ကယ်နှုတ်တော်မူပါ။ သူတို့သည်
၇ အကျွန်ုပ်ထက်သာ၍ခွန်အားကြီးကြပါ၏။– နာ
မတော်ကို အကျွန်ုပ် ချီး မွမ်းရမည် အကြောင်း
အကျွန်ုပ်ကိုထောင်ထဲကနှုတ်ဆောင်တော်မူပါ။
ထိုသို့ကျေးဇူးပြုတော်မူသောအခါ၊ ဖြောင့်မတ်
သောသူတို့သည် အကျွန်ုပ်ကိုဝန်းရံလျက်နေရ
ကြပါလိမ့်မည်။

၁၄၃

၁ အိုထာဝရဘုရား၊ အကျွန်ုပ်၏ပဌနာကိုကြား
၍၊ ဆုတောင်းသောစကားကို နားထောင်တော်
မူပါ၊ သစ္စာစောင့်ခြင်း၊ ဖြောင့်မတ်ခြင်းရှိတော်မူ
၂ သည်အတိုင်း ပြန်ပြောတော်မူပါ။– ကိုယ်တော်
၏ကျွန်နှင့် တရား တွေ့တော် မမူပါနှင့်။ အသက်
ရှင်သော သူမည် သည်ကား၊ ရှေ့တော်၌ အပြစ်
၃ ကင်း စင်ရာသို့ မရောက် ရပါ။– ရန်သူသည် အ
ကျွန်ုပ် ၏ ဝိညာဉ်ကို ညှဉ်းဆဲ ၍၊ အသက် ကို
လည်း မြေတိုင် အောင် နှိပ်နင်း၍၊ ကြာမြင့် စွာ
သေနေသောသူကဲ့သို့၊ အကျွန်ုပ်ကိုမှောင်မိုက်ထဲ

၄ မှာနေစေပါ၏။- အကျွန်ုပ်သည်စိတ်ပျက်လျက်၊
၅ ကိုယ်အထဲ၌နှစ်လုံးကြေကွဲလျက်ရှိပါ၏။- ရှေး
လွန်လေပြီးသောကာလကိုအောက်မေ့၍၊အလုံး
စုံသော အမှုတော် တို့ကိုငင်၊ လက် တော်နှင့် ပြု
၆ တွင်သော အရာများကို၄င် ဆင်ခြင်ပါ၏။- ကိုယ်
တော်ထံသို့ လက်တို့ကိုဆန့်ပါ၏။- ခွေ့ခြောက်
သောမြေကဲ့သို့ အကျွန်ုပ်၏ ဝိညာဉ်သည် ကိုယ်
၇ တော်ကိုတောင့်တပါ၏။- ဖိုထာဝရဘုရား၊ အ
လျင် အမြန် နား ထောင် တော် မူ ပါ။ အကျွန်ုပ်
သည်စိတ်ပျက်ပါပြီ။ မျက်နှာတော်မှုသဖြင့်၊
တွင်းထဲသို့ဆင်းသောသူကဲ့သို့ အကျွန်ုပ်ကိုဖြစ်
၈ စေတော်မမူပါနှင့်။-ကရုဏာတော်စကားသံကို
အလျင်အမြန်ကြားစေတော်မူပါ။ ကိုယ်တော်၌
ကိုးစားပါ၏။ ကိုယ်သွားရမည် ထမ်းကို သိစေ
တော်မူပါ၊ ကိုယ်တော်ကိုအကျွန်ုပ်တသပါ၏။-
၉ အိုထာဝရဘုရား၊ ရန်သူတို့လက်မှအကျွန်ုပ်ကို
ကယ်နှုတ်တော်မူပါ၊ ကိုယ်တော်ကိုခိုလှုံပါ၏။-
၁၀ အထိုတော်သို့လိုက်စေမည်အကြောင်းသွန်သင်
တော်မူပါ။ ကိုယ်တော်သည် အကျွန်ုပ်၏ဘုရား
သခင်ဖြစ်တော်မူ၏။ ကောင်းမြတ်သော ဝိညာဉ်
တော်သည် ဖြောင့်သော ထမ်း၌ အကျွန်ုပ် ကို
၁၁ ဆွေး ဆောင် တော် မူပါ စေ သော။- အိုထာဝရ
ဘုရား၊ နာမတော်အတွက်ကြောင့်၊အကျွန်ုပ်ကို
အသက် ရှင်စေ တော် မူပါ။ ဖြောင့် မတ်တော်မူ
သည်နှင့်အညီ၊ အကျွန်ုပ်၏ ဝိညာဉ်ကို ဆင်းရဲ
၁၂ ဒုက္ခအထဲကနှုတ်ယူတော်မူပါ။-ကရုဏာတော်
ရှိသည်အတိုင်း၊ အကျွန်ုပ်၏ ရန်သူ တို့ကို ပယ်
ရှင်း၍၊ အကျွန်ုပ်ကို ညှဉ်းဆဲသောသူအပေါင်း
တို့ကိုဖျက်ဆီးတော်မူပါ၊ အကျွန်ုပ်သည် ကိုယ်
တော်၏ကျွန်ဖြစ်ပါ၏။

၁၄၄

၁ ငါ၏ကျောက်တည်း ဟူသော ထာဝရဘုရား
သည် မင်္ဂလာ ရှိ တော် မူ စေ သ တည်း။ လက်
သည်စစ်တိုက်၍၊လက်ချောင်းတို့လည်းစစ်မှုကို
လေ့ကျက်မည်အကြောင်း သွန်သင်တော်မူ၏။-
၂ ကျေး ဇူး ပြုသော သူ၊ ငါ၏ မြို့ရိုး၊ ငါ၏ မဲ့ ကိုက်၊
ကယ်နှုတ်သောသခင်၊ငါ၏အကွယ်အကာ
ဖြစ်တော်မူ၏။ထိုဘုရားသခင်ကိုငါကိုးစား၏။ငါ
၃ ၏ လူမျိုးကို အောက် သို့ နှိမ့်ချ တော် မူ၏။- အို
ထာဝရ ဘုရား၊ လူသည် အဘယ် သို့ သော သူ
ဖြစ်၍၊ ကိုယ်တော်သည်မှတ်တော်မူရသနည်း။
လူသားသည်အဘယ်သို့သောသူဖြစ်၍၊ ပမာဏ
၄ ပြုတော် မူရ သနည်း။- လူသည် အငွေ့ နှင့် တူပါ
၏။ သူ၏နေ့ရက် တို့သည် လွန်သွား သော အ
၅ အရိပ် ကဲ့သို့ ဖြစ်ကြပါ၏။- အို ထာဝရ ဘုရား၊
ကိုယ် တော် ၏ မိုဃ်း ကောင်း ကင် ကို ညွတ် ၍
ဆင်းသက် တော်မူပါ။ တောင်တို့ကို ထိတော်မူ
၆ ပါ။သူတို့သည်မီးခိုးထွက်ကြပါလိမ့်မည်။-လျှပ်
စစ်ပြက်စေ၍ ထေးမြှား တော်တို့ကို ပြစ်သဖြင့်၊
ရန်သူ တို့ကို အရပ်ရပ် သို့ ကွဲပြားစေ၍ ဖျက်ဆီး
၇ တော်မူပါ။- အထက် အရပ် က ထက် တော် ကို
ဆန့်၍ အကျွန်ုပ်ကို နှုတ်တော် မူ ပါ။ တစ်ခုနက်
သော ရေထဲက၄င်၊ တကျွန်း တနိုင်ငံ သား တို့၏
လက်ထဲက၄င်၊ ကယ် ယူကယ်တင်တော်မူပါ။-
၈ သူတို့၏နှုတ်သည် မုသာစကားကိုပြောတတ်ပါ
၏၊ သူတို့၏ လက်ျာ လက်သည်လည်း ဖျည်းစား
တတ်သောလက်ဖြစ်ပါ၏။
၉ အိုဘုရား သခင်၊ ရှေ့တော်၌ အထူး သော သီ
ချင်းကို ဆိုပါမည်။ ကြိုး ဆယ်ပင် ရှိသော စောင်း
၁၀ ယနှင့်ထောမနာသီချင်းဆိုပါမည်။-အောင်မြင်
ရသောအခွင့်ကိုရှင်ဘုရင်တို့အားပေးတော်မူ၏။
ကိုယ်တော်၏ကျွန်ဒါဝိဒ်ကို ဆိုးသောထားဘေး
၁၁ နှင့်ကင်း လွတ်စေတော်မူ၏။- တကျွန်း တနိုင်ငံ
သားတို့၏လက်မှ၊ အကျွန်ုပ်ကို နှုတ်ယူ၍ ကယ်
တင်တော်မူပါ၊ သူတို့၏ နှုတ်သည် မုသာ စကား
ကိုပြောတတ် ပါ၏။ သူတို့၏ လက်ျာ လက်သည်
၁၂ လည်းလှည့်စားတတ်သော လက်ဖြစ်ပါ၏။- အ
ကျွန်ုပ် တို့၏ သားတို့သည် အရွယ် ပျိုစဉ်တွင်၊
ကြီးပွားသော ပျိုးပင်ကဲ့သို့၄င်၊ သမီးတို့သည် ဘုံ
ဗိမာန်မှန်နည်းတူ ထုသော ထိုက်ထောင့်ကျောက်
၁၃ တိုင် ကဲ့ သို့ ၄င် ဖြစ်ကြ ပါစေ သော။- အကျွန်ုပ်
တို့၏ဘဏ္ဍာတိုက်တို့သည်အစားအသောက်အ
သုံးအဆောင်များနှင့် ပြည့်စုံခြင်း၊ သိုးတို့သည်
မြို့ အရပ် တို့၌ အထောင် အသောင်း ပွားများ
၁၄ ခြင်း၊- နွားတို့သည်လည်း ကြီးပွား၊ များပြား
ခြင်း ရှိပါစေသော၊ အနိုင်အထက် ဝင်ခြင်းမရှိ၊
သိမ်းသွားခြင်းမရှိ၊ လမ်းတို့၌ကျွေးကြော်မြည်
၁၅ တမ်းခြင်းမရှိပါ စေ နှင့်။- ထိုသို့ နေသော လူမျိုး
သည် မင်္ဂလာ ရှိ ပါ ၏။ ထာဝရ ဘုရား သည် အ
ကြင်လူမျိုး၏ဘုရားသခင်ဖြစ်၏၊ ထိုလူမျိုးသည်
မင်္ဂလာရှိပါ၏။

၁၄၅

၁ အကျွန်ုပ်၏ရှင်ဘုရင်၊အကျွန်ုပ်၏ဘုရားသခင်၊
ကိုယ်တော်ကိုချီးမြှောက်ပါမည်။ကာလအစဉ်အဆက်

ထတ်နာမတော်ကို ကောင်းကြီးပေးပါမည်။-
၂ ကိုယ်တော်ကိုနေ့ထိုင်း အစဉ်ကောင်းကြီးပေး
ပါမည်၊ နာမတော်ကို ကမ္ဘာအဆက်ဆက် ချီး
၃ မွမ်းပါမည်။- ထာဝရဘုရားသည် ကြီးမြတ်၍
အလွန် ချီးမွမ်းဖွယ် ဖြစ်တော်မူ၏၊ ကြီးမြတ်
၄ တော်မူခြင်းကိုစစ်၍မကုန်နိုင်။-အမှုတော်တို့ကို
လူမျိုးအဆက်ဆက်တို့သည်ချီးမွမ်း၍၊ တန်ခိုး
၅ တော်များကို ဟောပြောကြပါလိမ့်မည်။- အ
ထွန်းပ်သည် ထည်းဘုန်း၊ တန်ခိုးအာနုဘော်
တော်ကိုငှင်၊ အံ့ဖွယ်သော အမှုတော်တို့ကိုငှင်
၆ မြွက်ဆိုပါမည်။- သူတို့သည် ကြောက်မက်
ဖွယ်သော အမှုတော်တို့၌ ပါသော တန်ခိုးကို
မြွက်ဆို၍၊ အကျွန်ုပ်သည် လည်း၊ ကြီးမြတ်
တော်မူခြင်းအကြောင်းကို ကြားပြောပါမည်။-
၇ သူတို့သည် အလွန်ကောင်းမြတ်တော်မူခြင်းကို
အောင်းမေ့ ဖွယ်ရာ မြွက်ဆို၍၊ ဖြောင့်မတ်တော်
မူခြင်းအရာကို ရွှင်လန်းစွာ သီခြင်း ဆိုကြပါ
လိမ့်မည်။

၈ ထာဝရဘုရားသည်ကျေးဇူးပြုတတ်သောသ
ဘော၊သနား၊စုံမက်တတ်သောသဘောနှင့်ပြည့်
စုံ၍၊ ခန္တီတော်နှင့်ကရုဏာတော်သည် အလွန်
၉ ကြွယ်ဝ ပါ၏။- ထာဝရဘုရားသည် ခပ်သိမ်း
သော သူတို့အား ကျေးဇူးပြုချင်သော သဘော
ရှိ၍၊ ဖန်ဆင်းတော်မူသမျှတို့ကို သနား၊ စုံမက်
၁၀ တော်မူ၏။- အိုထာဝရဘုရား၊ ဖန်ဆင်းတော်မူ
သမျှတို့သည်ဂုဏ်တော်တို့ကိုပြ၍၊ ကိုယ်တော်
၏သန့်ရှင်းသူတို့သည် ကောင်းကြီးပေးကြပါ
၁၁ ၏။- နိုင်ငံတော်၏ ဘုန်းကိုငှင်၊ တန်ခိုးတော်ကို
၁၂ ငှင်၊ ဟောပြောမြွက်ဆိုသဖြင့်- တန်ခိုးပါသော
အမှုတော် များနှင့် နိုင်ငံတော်၏ ဘုန်း၊ အသရေ
၁၃ များကိုလူသားတို့အားဖော်ပြကြပါ၏။- ကိုယ်
တော်၏ နိုင်ငံသည် နိစ္စထာဝရ နိုင်ငံဖြစ်၍၊ အာ
ဏာတော်သည် ကာလအစဉ်အဆက် တည်ရ
ပါ၏၊ ထာဝရဘုရားသည် လဲသောသူရှိသမျှတို့
၁၄ ကို ထောက်မတော်မူ၏။- နှိမ့်ချသောသူ အ
၁၅ ပေါင်းတို့ကို ကြွပင့်တော်မူ၏။- ခပ်သိမ်းသော
သတ္တဝါတို့သည်ကိုယ်တော်ကိုမျှော်ကြည့်ကြ၍၊
၁၆ အချိန်တန်မှသူတို့ကိုကျွေးမွေးတော်မူ၏၊ လက်
တော်ကို ဖွင့်၍၊ အသက်ရှင်သော သတ္တဝါအ
၁၇ ပေါင်းတို့ကို ရောင့်ရဲစေတော်မူ၏။- ထာဝရ
ဘုရား၏ လမ်းခရီးတော်ရှိသမျှတို့သည် ဖြောင့်
မတ်၍၊ ခပ်သိမ်းသောအမှုတော်တို့သည် သန့်

၁၈ ရှင်းကြပါ၏။- ထာဝရဘုရားသည် ပဌနာပြု
သောသူအပေါင်း၊သစ္စာနှင့်တကွပဌနာပြုသော
သူအပေါင်းတို့၏ အနီးအပါး၌ ရှိတော်မူ၏။-
၁၉ ကြောက်ရွံ့သောသူတို့၏အလိုကိုပြည့်စုံစေတော်
မူ၏၊ ထိုသူတို့၏အော်ဟစ်ခြင်းကိုကြား၍ကယ်
၂၀ တင်တော်မူ၏။- ထာဝရဘုရားသည် ချစ်ကြည်ညို
သော သူအပေါင်းတို့ကို စောင့်မတော်မူ၏၊ မ
တရားသော သူအပေါင်းတို့ကိုကား၊ ဖျက်ဆီး
၂၁ တော်မူမည်။- ထာဝရဘုရားကိုချီးမွမ်းထောက်
ငါမြွက်ဆိုမည်၊ ခပ်သိမ်းသောလူတို့သည်သန့်
ရှင်းသော နာမတော်ကို ကမ္ဘာအဆက်ဆက်
ကောင်းကြီးပေးကြစေ။

၁၄၆

၁ ဟာလေလုယာ၊ ထာဝရဘုရားကိုချီးမွမ်းလော့။-
၂ ငါသည်အသက်ရှင်စဉ်အခါ၊ထာဝရဘုရားကို
ချီးမွမ်းမည်၊ ငါဖြစ်စဉ် ကာလ ပတ်လုံး၊ ငါ၏
၃ ဘုရားသခင်ကိုထောမနာသီခြင်းဆိုမည်။-မင်း
များမှစ၍ ကယ်တင်နိုင်သောလူသားကိုမကိုး
၄ စားကြနှင့်။- သူသည် အသက်ထွက်၍ မြေသို့
ပြန်သွားတတ်၏၊ ထိုနေ့ချင်းတွင်၊သူ၏အကြံအ
၅ စည်တို့သည် ပျက်စီးကြ၏။- ယာကုပ်အမျိုး၏
ဘုရားသခင် မစတော်မူသောသူ၊ မိမိဘုရား
သခင်ထာဝရဘုရားကို မျှော်လင့်သောသူသည်
၆ မင်္ဂလာရှိ၏။-ထိုဘုရားသခင်သည်ကောင်းကင်၊
မြေကြီး၊ သမုဒ္ဒရာနှင့်တကွ အရပ်ရပ်၌ ရှိသမျှ
တို့ကိုဖန်ဆင်းတော်မူ၏၊ သစ္စာတော်ကို အစဉ်
၇ အမြဲစောင့်တော်မူ၏။- ညှဉ်းဆဲခြင်းကို ခံရ
သောသူတို့အား တရားပြုတော်မူ၏၊ ငတ်မွတ်
သောသူတို့ကိုကျွေးမွေးတော်မူ၏၊ထာဝရဘုရား
သည်ချုပ်ထားခြင်းကို ခံရသောသူတို့ကိုလွှတ်
၈ တော်မူ၏။- ထာဝရဘုရားသည် မျက်မိကန်း
သောသူတို့ကို မြင်စေတော်မူ၏၊ ထာဝရဘုရား
သည်နှိမ့်ချသောသူတို့ကို ကြွပင့်တော်မူ၏၊ ထာ
ဝရဘုရားသည် ဖြောင့်မတ်သောသူတို့ကို ချစ်
၉ တော်မူ၏။- ထာဝရဘုရားသည် ဧည့်သည်တို့
ကို စောင့်မတော်မူ၍၊ မိဘမဲ့နှင့် မိတ်မရှိသော
သူတို့ကို ထောက်မတော်မူ၏၊ မတရားသောသူ
တို့၏လမ်းကိုကား၊ ဖောက်ပြန်စေတော်မူ၏။-
၁၀ အိုဇိအုန်မြို့၊ သင်၏ဘုရားသခင် တည်းဟူသော
ထာဝရဘုရားသည်ကာလအစဉ်အမြဲကမ္ဘာအ
ဆက်ဆက်စိုးစံတော်မူလတ္တံ့သတည်း၊ဟာလေ
လုယာ။

၁၄၇

၁ ထာဝရဘုရားကိုချီးမွမ်းကောင်းသည်ဖြစ်၍၊
ချီးမွမ်းကြလော့၊ ငါတို့၏ဘုရားသခင်ကိုထော
မနာ ပြုခြင်းသည် သာယာ လျောက် ပတ်သည်
၂ ဖြစ်၍ထောမနာသီခြင်း ဆိုကြလော့။ ထာဝရ
ဘုရားသည်ယေရုရှလင်မြို့ကို တည်ဆောက်၍၊
အဝေးသို့နှင်လိုက်သောဣသရေလအမျိုးသား
၃ တို့ကို စုဝေးစေတော်မူ၏။ စိတ်ကြေမွသောသူ
တို့ကိုနှစ်သိမ့်စေ၍၊ သူတို့၏အနာကို ကုတော်မူ
၄ ၏။ ကြယ်များကို ရေတွက်၍ အသီးအသီးတို့
၅ ကိုသမုတ်တော်မူ၏။ ငါတို့၏ဘုရားရှင်သည်
ကြီးမြတ်တော်မူ၏၊ တန်ခိုးတော်လည်းကြီး၏၊
၆ ဉာဏ်တော်သည် အနန္တဖြစ်၏။ ထာဝရ
ဘုရားသည် စိတ်နှိမ့်ချသော သူတို့ကို ချီပင့်၍၊
မတရားသော သူတို့ကိုကား၊ မြေပေါ်မှာချည်း
တော်မူ၏။

၇ ဂုဏ်တော်ကို ချီးမွမ်းလျက် ထာဝရ ဘုရား
ရှေ့တော်၌ သီခြင်း ဆိုကြလော့၊ စောင်းတီး၍၊
ငါတို့၏ ဘုရားသခင်ကိုထောမနာသီခြင်းဆိုကြ
၈ လော့။ ကောင်းကင်ကို မိုဃ်းတိမ်များနှင့် ဖုံး
အုပ်သောဖြင့်၊ မြေကြီးအို့မိုဃ်းရေကိုပြင်ဆင်၍၊
တောင်များ ပေါ်မှာ မြက်ပင်ကို ပေါက်စေတော်
၉ မူ၏။ မြည်တတ်သောကျီးကန်းကလေးမှစ၍၊
၁၀ တိရစ္ဆာန်များတို့ကိုကျွေးမွေးတော်မူ၏။ မြင်း
၏ခွန်အားနှင့် လူ၏ လျင်မြန် ခြင်းကို အားရ နှစ်
၁၁ သက်တော်မူခြင်းမရှိ။ ကြောက်ရွံ့သောသူနှင့်၊
ကရုဏာ တော်ကို မျှော်လင့်သော သူတို့ကိုထာ
ဝရဘုရားနှစ်သက်တော်မူ၏။

၁၂ အိုယေရုရှလင်မြို့၊ ထာဝရ ဘုရားကို ချီးမွမ်း
လော့၊ အိုဇိအုန်မြို့၊ သင်၏ ဘုရား သခင်ကို ချီး
၁၃ မွမ်းလော့။ အကြောင်းမူကား၊ သင်၏ တံခါး
ကန့်လန့်တို့ကိုခိုင်မာစေ၍၊သင်၏အထဲမှာသား
၁၄ သမီးများကို ကောင်းကြီး ပေးတော် မူ၏။ သင်၏
ပြည်စွန်းပြည်နားမှာ အမှုအရေးကိုငြိမ်းစေ၍၊
အကောင်းဆုံးသောစပါးနှင့် သင့်ကိုဝစွာကျွေး
၁၅ မွေးတော်မူ၏။ မြေကြီးပေါ်သို့ဗျာဒိတ်တော်ကို
လွှတ်တော်မူ၏၊နှုတ်ကပတ်တော်သည်အလျင်
၁၆ အမြန် ပြေးတတ် ပါ၏။ မိုဃ်းပွင့်ကို သိုးမွေး
ကဲ့သို့ ချတော်မူ၏၊ နှင်းခဲ ကို ထည်း ပြာ ကဲ့သို့
၁၇ လွှတ်ဖြူးတော်မူ၏။ မိုး မိုဃ်းသီးကို စားနုပ်
စားပေါက်ကဲ့သို့လွှတ်တော်မူ၍၊ချမ်းစေတော်မူ
၁၈ ခြင်းကိုအဘယ်သူခံနိုင်သနည်း။ တဖန်နှုတ်
ကပတ် တော်ကို လွှတ်၍၊ ထိုမိုဃ်းနှင့် အရေ
သည်တို့ကို အရည်ကြို တော် မူ၏၊ မိုးလေကို
ထာ စေတော် မူ သဖြင့်၊ ရေတို့သည် စီး ကြ၏။
၁၉ နှုတ်ကပတ် အမိန့်တော် ကို ယာကုပ် အမျိုး၌
၎င်း၊ စီရင်ထုံးဖွဲ့တော်မူချက်များကို ဣသရေလ
၂၀ အမျိုး၌၎င်း ဖော်ပြ တော် မူ၏။ အခြား တပါး
သော အမျိုးသား တို့၌ ထိုသို့ ပြုတော်မမူ၊ စီရင်
တော် မူချက် များကို သူတို့မသိရကြ၊ ဟာလေ
လုယာ။

၁၄၈

၁ ကောင်းကင်ဘုံ၌ထာဝရဘုရားကိုချီးမွမ်းကြ
၂ လော့၊ အဝက်ပေါ်မှာချီးမွမ်းကြလော့။ ကောင်း
ကင်တမန် အပေါင်း တို့၊ ထာဝရ ဘုရားကို ချီး
မွမ်း ကြလော့၊ ကောင်းကင် ဗိုလ်ခြေ အပေါင်း
၃ တို့၊ ချီးမွမ်းကြလော့။ နေလတို့၊ ထာဝရဘုရား
ကိုချီးမွမ်းကြလော့၊ ထွန်းလင်းသော ကြယ်အ
၄ ပေါင်း တို့၊ ချီး မွမ်း ကြလော့။ ကောင်း ကင်အ
ထပ်ထပ်နှင့် ကောင်းကင်ပေါ်မှာ ရေများတို့၊ ချီး
၅ မွမ်းကြလော့။ ထိုအရာတို့ကိုအမိန့်တော်ရှိ၍၊
ဖန်ဆင်းတော်မူသောကြောင့်၊ ထာဝရဘုရား၏
နာမ တော် ကို ချီးမွမ်း ကြ စေ။ ထိုအရာ တို့ကို
၆ ကာလ အစဉ်အဆက်အမြဲ တည်စေတော်မူ၍၊
မပျက်ရသောစီရင်တော်မူ၏။

၇ မြေကြီး၌ရှိသောအရာ၊ ငါးကြီးများ၊ နက်နဲရာ
၈ အရပ်များ၊ မီးနှင့်မိုဃ်းသီး၊ မိုဃ်းပွင့်နှင့်အ
မိုးအငွေ့၊ အမိန့်တော်ကို နားထောင်သော လေ
၉ ပြင်းမုန်တိုင်း။ တောင်ကြီးတောင်ငယ်ရှိသမျှ၊
အသီးကို သီးသောအပင်၊ အာရဇ်ပင် ရှိသမျှ။
၁၀ သားရဲနှင့်သားယဉ်အပေါင်း၊ တွားတတ်သော
တိရစ္ဆာန်နှင့် ပျံတတ်သော ငှက် အစ ရှိသော-
၁၁ လောကီ ရှင်ဘုရင်များနှင့်ပြည်သူပြည်သားအ
ပေါင်း၊ မင်း များနှင့် လောကီ တရား သူကြီး အ
၁၂ ပေါင်း၊- လူပျို နှင့်အပျိုများ၊ လူအိုနှင့်လူကလေး
များတို့၊ ထာဝရ ဘုရားကို ချီး မွမ်း ကြလော့။
၁၃ နာမတော် တပါးတည်းသာလျှင်မြတ်၍၊ ဘုန်း
တော် သည် မြေကြီး နှင့် ကောင်း ကင် အပေါ်
ထက်၌ ရှိသော ကြောင့်၊ ထာဝရ ဘုရား၏ နာမ
၁၄ တော်ကိုချီးမွမ်းကြစေ။ မိမိလူစုတို့၏ ဦးချိုကို
ချီးမြှင့်တော်မူသဖြင့်၊ အနီးတော်၌ရှိသောလူစု၊
ဣသရေလ အမျိုးသားတည်းဟူသော မိမိသန့်
ရှင်းသူ အပေါင်းတို့အံ ချီးမွမ်းရာ ဖြစ်တော်မူ၏။
ဟာလေလုယာ။

၁၄၉

၁ ထာဝရဘုရားရှေ့တော်၌အသစ်သောသီချင်း
ကိုဆို၍၊သန့်ရှင်းသူတို့စည်းဝေးရာ၌ဂုဏ်တော်
၂ ကိုချီးမွမ်းကြလော့။– ဣသရေလ အမျိုးသည်
မိမိကိုဖန်ဆင်းတော်မူသော ဘုရားကို အမှီပြု၍
ဝမ်းမြောက်စေ။ ဇိအုန်သားတို့သည် မိမိတို့ရှင်
၃ ဘုရင်ကိုအမှီပြု၍ရွှင်လန်းကြစေ။– သူတို့သည်
ကစုန်လျက် နာမတော်ကို ချီးမွမ်းကြစေ။ ပတ်
သာနှင့် စောင်းကိုတီးလျက် ထောမနာ သီခြင်း
၄ ဆိုကြစေ။– အကြောင်းမူကား၊ ထာဝရ ဘုရား
သည်မိမိလူစုကို နှစ်သက်တော်မူ၏။ စိတ်နှိမ့်ချ
သောသူတို့ကိုကယ်တင်ခြင်းအားဖြင့်၊အသရေ
၅ တင့်တယ် စေတော်မူ၏။– သန့်ရှင်း သူတို့သည်
ဘုန်းကြီး၍ဝမ်းမြောက်ဝမ်းသာကြစေ။ ကျိန်း
ဝပ်ရာ ပေါ်မှာရွှင်လန်းစွာ သီခြင်း ဆိုကြစေ။–
၆-၉ တပါးအမျိုးသား တို့အား တရားအတိုင်း အ
ပြစ် ပေး၍၊ လူ စု တို့ အား ဒဏ် ခတ် ခြင်း ငှါ
၎င်း၊ သူတို့၏ ရှင်ဘုရင် များကို သံကြိုး နှင့် ချည်
နှောင်၍၊ မှူးမတ်များကို သံခြေချင်းခတ်ခြင်းငှါ
၎င်း၊ ကျမ်းစာ၌ မှတ်သားသောအပြစ်စီရင်ခြင်း
ကို သူတို့ အား ပြု ခြင်းငှါ ၎င်း၊ သန့် ရှင်း သူ တို့
သည် ဘုရားသခင်၏ ဂုဏ် တော်ကို ချီးမွမ်းချီး
မွမ်း၍၊သန်လျက်ကိုလက်နှင့်ကိုင်ကြစေ။ထာဝ
ရဘုရား၏သန့်ရှင်းသူအပေါင်း တို့သည် ထိုသို့
သောဘုန်းနှင့်ဆိုင်ကြ၏။ထာလေလုယာ။

၁၅၀

၁ သန့်ရှင်းရာ ဌာန တော် ၌ ဘုရား သခင်ကို ချီး
မွမ်းကြလော့။ ဘုန်းတော် ထင်ရှားရာ ကောင်း
ကင် မျက်နှာ ကြက် ပေါ်မှာ ချီးမွမ်း ကြလော့။–
၂ ထူးဆန်းသောတန်ခိုးတော်များကြောင့်၊ ဘုရား
သခင်ကို ချီးမွမ်း ကြ လော့။ အလွန် တရာ ကြီး
မြတ် တော် မူ ခြင်း ရှိ သည် အတိုင်း ချီး မွမ်းကြ
၃ လော့။– တံပိုးမှုတ်လျက်ဘုရားသခင်ကိုချီးမွမ်း
ကြလော့၊ တယောနှင့် စောင်းကို တီး လျက် ချီး
၄ မွမ်းကြလော့။–ပတ်သာတီးလျက်၊ကစုန်လျက်
နှင့် ချီးမွမ်းကြလော့။ ကြိုးနှင့်ပြည့်စုံသောတူရိ
ယာကိုတီးလျက်၊ ခရာကို မှုတ် လျက် ချီးမွမ်း
၅ ကြလော့။– အသံ ကျယ်သော သံလွင် ကို တီး
လျက် ချီးမွမ်းကြလော့၊ အကြီးဆုံးသောလင်း
၆ ကွင်းကိုလည်းတီးလျက်ချီးမွမ်းကြလော့။– အ
သက်ရှင်သောသူအပေါင်းတို့သည်ထာဝရဘုရား
ကိုချီးမွမ်းကြစေ။ ထာလေလုယာ။

ဓါဝိဒ်မင်းကြီးနှင့်ရှင်အာသပ်အစရှိသောပဆ္ဍာဖက်များတို့သည်
စီရင်ရေးထားသောဆာလံကျမ်းပြီး၏။

---

# သုတ္တံကျမ်း။

## THE PROVERBS.

၁

၁-၄ ပညာတရား၊နည်းဥပဒေသတရားကိုသိ၍၊
ဉာဏ်နှင့် ယှဉ်သော စကားကို နားလည်မည်
အကြောင်း၊ ပညာ သွန်သင် ခြင်း၊ ကြောင့်မတ်
စွာကျင့်ခြင်း၊တရားသဖြင့်စီရင်ခြင်း၊လျှစ်လျူ
စွာဆုံးဖြတ်ခြင်းအမှုအရာ၌ ထွက်ကျက်မည်အ
ကြောင်း၊မိုက်သောသူသည်လိမ္မာ၍၊လူပျိုသည်
ပညာအသိနှင့် ပြည့်စုံမည်အကြောင်း၊ဓါဝိဒ်၏
သားတော်ဖြစ်သော ဣသရေလ ရှင်ဘုရင် ရှော
၅ လမုန်စီရင်သောသုတ္တံစကားတို့မူကား၊– ပညာ
၆ ရှိသော သူ သည် နား ထောင် အဖြင့်၊ ပညာ အ
တတ်တိုးပွားရလိမ့်မည်၊ ဉာဏ်ကောင်းသော
သူသည် သုတ္တံစကား အနက် အဓိပ္ပါယ်ကို ၎င်း၊
ပညာရှိ ပြောဆို၍ နက်နဲသော စကား တို့ကို
၎င်း၊ နားလည်သောနိုင်ရည်၊ အရာအမြွက်ကို
ရောက်ရလိမ့်မည်။
၇ ထာဝရဘုရားကို ကြောက်ရွံ့သော အကြော
သည်ပညာ၏ အချုပ်အချာ ဖြစ်၏။ လူမိုက်တို့

သည်ပညာနှင့် ဥပဒေသကို မထီမဲ့မြင် ပြုတတ်
၈ ကြ၏။- ငါ့သား၊ အဘ၏နည်း၊ ဥပဒေသကို နား
ထောင်လော့၊ အမိ၏ တရားကို ထည်း မပယ်
၉ နှင့်။- ထိုနည်း၊ ဥပဒေသ တရားတို့သည် သင်၏
ခေါင်း၌တင်ထယ်သောဦးရစ်၊ သင်၏ထည်ပင်း
၌ပတ်ရစ်သောလည်ဆွဲဖြစ်ကြလိမ့်မည်။
၁၀ ငါ့သား၊ လူဆိုးတို့သည် သင့်ကို သွေးဆောင်
၁၁ လျှင်ဝန်မခံနှင့်။- သူတို့က၊ ငါတို့နှင့်အတူလိုက်
လော့၊ သူ့အသက်ကိုသတ်ထိုသောငှါစောင့်ကြ
အံ့၊ အပြစ်လွတ်သောသူတို့ကိုချောင်း
၁၂ မြောင်းကြအံ့။- သင်္ချိုင်းတွင်းသို့ ဆင်းသော
သူတို့ကဲ့သို့ တကိုယ်လုံး ပါလျက်၊ အသက်ရှင်
လျက်ရှိသော ထိုသူတို့ကို မရဏာနိုင်ငံမြိုသကဲ့
၁၃ သို့ မြိုကြအံ့။- အဘိုးထိုက်သော ဥစ္စာ အမျိုး
မျိုးကိုတွေ့၍၊ လုယူသောဥစ္စာနှင့် ငါတို့အိမ်ကို
၁၄ ပြည့်စေကြမည်။- ငါတို့နှင့် ပေါင်းဖော် လော့၊
ရသောဥစ္စာကို အညီအမျှ ပိုင်ကြအံ့ဟု ဆိုသော်
၁၅ လည်း၊- ငါ့သား၊ သူတို့နှင့်အတူမလိုက်နှင့်၊ သူတို့
၁၆ သွားသော လမ်းကို ရှောင်လော့။- အကြောင်း
မူကား၊ သူတို့ခြေသည် ဒုစရိုက်ပြုရာသို့ပြေး၍၊
၁၇ လူ့ အသက် ကို သတ် ခြင်း ငှါ လျင် မြန်၏။- အ
ကယ်စင်စစ်ငှက်ရှုက်မှောက်၌ ပိုက်ကွန်ကိုဖြန့်
၁၈ ထားလျှင်အကြိုးမပြောက်ရာ။- လူဆိုးတို့သည်
ကိုယ်အသွေးကိုသွန်ထိုသောငှါစောင့်၍၊ ကိုယ်
အသက် ကို သတ် ထိုသော ငှါ ချောင်း မြောင်း
၁၉ တတ်ကြ၏။- မတရားသောစီးပွားကို ရှာသော
သူအပေါင်းတို့သည် ထိုသို့သောအကျိုးကို ခံရ
၍၊ ထိုစီးပွားသည်မိမိအရှင်၏ အသက်ကိုသတ်
တတ်၏။
၂၀ ပညာသည်ပြင်မှာကျွေးကြော်၍၊ လမ်းခရီး
၂၁ ထို့၌မိမိစကားသံကိုလွှင့်တတ်၏။-လူစည်းဝေး
ရာအဦး၌၎င်း၊ မြို့တံခါးဝတို့၌၎င်း၊ မြို့ထဲ၌၎င်းခေါ်
၂၂ ၍ မြွတ်ဆိုသော စကား ဟူမူကား၊- ဖိုလူမိုက်
တို့၊ သင်တို့သည်မိုက်သောအကျင့်ကိုနှစ်သက်
လျက်၊ ကဲ့ရဲ့သော သူတို့ သည် ကဲ့ရဲ့ ခြင်း၌ မွေ့
လျော်လျက်၊ မိုက်မဲသော သူတို့သည် ပညာအ
တတ်ကိုရွံ့လျက်၊ အဘယ်မျှ ကာလပတ်လုံး
၂၃ နေကြ လိမ့်မည်နည်း။- ငါဆုံးမသော စကားကို
နားထောင်၍ ပြောင်းလဲကြလော့၊ ငါ့ဝိညာဉ်ကို
သင်တို့အပေါ်သို့ငါသွန်းလောင်း၍၊ ငါ့စကား၏
အနက်အဓိပ္ပာယ်ကိုနားထည်စေမည်။
၂၄ ငါသည်ခေါ်၍ သင်တို့သည်ငြင်းပယ်သော
ကြောင့်၎င်း၊ လက်ကိုဆန့်၍အဘယ်သူမျှမ
၂၅ မှတ်သောကြောင့်၎င်း- ငါသတိပေးခြင်းရှိသမျှ
ကိုသင်တို့သည်ပယ်၍၊ ငါဆုံးမသော စကားတ
၂၆ ခွန်းကိုမျှနားမခံဘဲနေသောကြောင့်၎င်း၊-သင်တို့
သည်ဘေးဥပါဒ်နှင့်တွေ့ကြုံသောအခါငါရယ်
မည်၊ ကြောက်မက်ဖွယ်သော အမှုရောက်သော
၂၇ အခါငါပြက်ရယ်ပြုမည်၊-သင်တို့ကြောက်မက်
ဖွယ်သောအမှုသည် သုတ်သင်ပယ်ရှင်းခြင်းအ
မှုကဲ့သို့၎င်း၊ သင်တို့ပျက်စီးခြင်း အမှုသည် လေ
ပြင်းမုန်တိုင်းကဲ့သို့၎င်းရောက်လာ၍၊ သင်တို့
သည် ဆင်းရဲခြင်း၊ ပူပန်ခြင်းနှင့် တွေ့ကြုံသော
၂၈ အခါ- ထိုအမှုရောက်သောသူတို့သည်ငါ့ကိုခေါ်
သော်လည်း ငါမထူး၊ ငါ့ကို ကြိုးစား၍ ရှာသော်
၂၉ လည်း မတွေ့ရကြ။- အကြောင်းမူကား၊ သူတို့
သည်ပညာအတတ်ကိုရွံ့ကြ၏၊ ထာဝရဘုရား
ကိုကြောက်ရွံ့သော သဘောကို အလိုမရှိကြ၊-
၃၀ ငါသတိပေးခြင်းကိုအလျှင်းနားမခံကြ၊ ငါဆုံးမ
၃၁ ခြင်းရှိသမျှကိုမထီမဲ့မြင်ပြုကြ၏။- ထိုကြောင့်သူ
တို့သည်ကိုယ်ကျင့်ခြင်း၏ အကျိုးအပြစ်ကို စား
၍၊ ကိုယ်ကြံသောအကြံတို့နှင့်ဝကြလိမ့်မည်။-
၃၂ ဉာဏ်တိမ်သော သူတို့သည် လမ်းလွဲ သဖြင့်၊
အသက် ဆုံးတတ် ကြ၏၊ မိုက်သော သူတို့သည်
သတိထစ်သောအားဖြင့်ပျက်စီးခြင်းသို့ ရောက်
၃၃ တတ်ကြ၏။- ငါ့စကားကို နားထောင် သောသူမူ
ကားထိုချုပ်စွာနေ၍၊ ဘေးကို မကြောက်ဘဲငြိမ်
ဝပ်လိမ့်မည်။

၂

၁ ငါ့သား၊ သင်သည်ပညာစကားကိုနားထောင်
၂ ၍၊ စေတနာမိတ်နှင့်ဉာဏ်ကိုရှာဖွေသည်တိုင်
အောင်၊ ငါ့စကားကိုနားခံ၍၊ ပညတ်တို့ကိုကိုယ်
၃ အထဲ၌သွင်းမိလျှင်၎င်း- သိပ္ပံအတတ်ကိုခေါ်၍၊
၄ ဉာဏ်နောက်သို့အသံကိုလွှင့်လျှင်၎င်း- ငွေကို
ရှာတတ်သကဲ့သို့ပညာကိုရှာ၍၊ ဝှက်ထားသော
ဥစ္စာကို စူးစမ်းတတ်သကဲ့သို့၊ ဉာဏ်ကိုစူး
၅ စမ်းလျှင်၎င်း- ထာဝရဘုရားကို ကြောက်သော
သဘော၌ကျင်လည်၍၊ ဘုရားသခင်ကိုသိသော
၆ ဉာဏ် နှင့် ပြည့်စုံ လိမ့် မည်။- အကြောင်း မူ
ကား၊ ထာဝရဘုရားသည်ပညာကို ပေးတော်မူ
တတ်၏၊ နားထည်နိုင်သော ဉာဏ်သည် နှုတ်
၇ ကပတ်တော် အားဖြင့်သာဖြစ်တတ်၏။- ဖြောင့်
မတ်သော သူတို့အဖို့ ပညာရတနာကို သိုထား
တော်မူ၏၊ တရားသဖြင့်ကျင့်သောသူတို့ကိုကွယ်

၈ ထားတော်မူ၏။- မိမိသန့်ရှင်းသူတို့သည် တရား
လမ်းကိုစောင့်ရှောက်မည်အကြောင်း၊ သူ့ထို၏
၉ လမ်းခရီးကိုထိန်းချုပ်စေတော်မူ၏။-ကျေးဇူးတော်
ကြောင့် သင် သည် ဖြောင့် မတ် စွာ ကျင့် ခြင်း၊
တရားသဖြင့် စီရင်ခြင်း၊ ညှစ်ညျူးစွာ ဆုံးဖြတ်
ခြင်းမှစ၍၊ ကောင်းသောလမ်းရှိသမျှတို့ကို သိ
နားလည်လိမ့်မည်။
၁၀ ပညာသည် သင်၏ နှစ်လုံး ထဲသို့ဝင်၍၊ သင့်
၁၁ အသိကြေးခြင်း၌မွေ့လျော်သောအခါ၊ သတိ
သတိသည်သင့်ကိုထိန်းသိမ်း၍၊ ဉာဏ်သည်
၁၂ ထည်းစောင့် ရှောက်သဖြင့်- ဆိုးသော လမ်းမှ
ထုတ်တင် လိမ့် မည်။ ကောက် သော စကား ကို
၁၃ ပြောတတ်သောသူ၊- ဖြောင့်မတ်သောလမ်းကို
၁၄ စွန့်၍၊ မိုက်မဲသောလမ်းသို့လိုက်သောသူ၊- ဒုစ
ရိုက်၌မွေ့လျော်၍၊အဓမ္မလူ၏ကောက်လိမ်ခြင်း
၁၅ ကိုအားရနှစ်သက်သောသူ၊- ဖြောင့်သောလမ်း
သို့မလိုက်၊ ကောက် သော လမ်း သို့ သာ လိုက်
၁၆ သောသူတို့၏ လက်မှငင်- အမျိုးပျက်သောမိမ္မ၊
ချွတ်နှင့်ချော့မော့တတ်သောပြည်တန်ဆာမိမ္မ၊-
၁၇ အသက်ငယ်စဉ်၊ ဝဲဖွင်သောကျေးဇူးရှင်ကိုစွန့်
၍၊မိမိဘုရားသခင်၏ပဋိညာဉ်တရားကိုမေ့လျော့
သော မိမ္မ လက်မှ ငင်၊ သင့် ကို ကယ် တင် လိမ့်
၁၈ မည်။- ထိုမိမ္မ၏ အိမ်သည်သေခြင်းနှင့်ငင်၊ သူ
လိုက်သောလမ်းတို့သည် သင်းချိုင်းသား နေရာ
၁၉ နှင့်ငင်စပ်ဆိုင်သဖြင့်-သူ၏အိမ်သို့ဝင်သောသူ
တစုံတယောက်မျှမပြန်ရ၊ အသက်လမ်းကိုမမှီ
၂၀ ရ။- သင်သည် သူတော်ကောင်းတို့၏ လမ်းသို့
ရှောက်၍၊ ဖြောင့်မတ် သောသူတို့၏ လမ်းခရီး
ထဲကမထွက်ဘဲ အစဉ်တစိုက် လိုက်ရမည်အ
၂၁ ကြောင်းတည်း။- ဖြောင့်မတ်သော သူတို့သည်
ပြည်တော်၌နေ၍၊စုံလင်သောသူတို့သည်နေရာ
၂၂ ကျကြလိမ့်မည်။-အဓမ္မလူတို့မူကား၊ပြည်တော်
မှ ပယ် ရှင်းခြင်း၊ လွှန် ကျူး သော သူတို့ သည်
နှုတ်ပြစ်ခြင်းကိုခံရကြလိမ့်မည်။

၃

၁ သား၊ ငါပေးသော တရား ကို မမေ့ နှင့်။ င
ပညတ်တို့ကိုသင်၏နှစ်လုံးစောင့်ရှောက်ပါစေ။-
၂ အကြောင်းမူကား၊ပညတ်တရားသည်အသက်
တာရှည်သောကာလနှစ်ပေါင်းများကိုငင်၊ ငြိမ်
၃ ဝပ်ခြင်းကိုငင်တိုးပွားစေလိမ့်မည်။- ကရုဏာ
တရားနှင့် သစ္စာတရားကို သင်နှင့်မကွာစေနှင့်၊
ထိုတရားတို့ကိုသင်၏လည်ပင်း၌ဆွဲထားလော့၊
၄ နှစ်လုံးအခင်းစာရင်း၌ရေးသွင်းထားလော့။-ထိုသို့ပြု
လျှင်ဘုရားသခင်ရှေ့၊ လူတို့ရှေ့မှာမျက်နှာရ၍၊
ကျေးဇူးကို ခံရလိမ့်မည်။
၅ ထာဝရဘုရားကို မိတ်နှစ်လုံး အကြွင်းမဲ့ကိုး
၆ စားလော့၊ ကိုယ်ဉာဏ်ကိုအမှီမပြုနှင့်။- သွား
လေ ရာရာ၌ ထာဝရ ဘုရားကို မျက် မှောက် ပြု
လော့၊သို့ပြုလျှင်၊ သင်၏ လမ်းခရီး တို့ကို ဖွဲ့ဖွင့်
၇ တော်မူမည်။- ငါသည်ပညာရှိ၏ဟု ကိုယ်ကိုမ
ထင်နှင့်၊ထာဝရဘုရားကိုကြောက်ရွံ့၍ဒုစရိုက်
၈ ကိုရှောင်လော့။- သို့ပြုလျှင်၊သင်၏ အကြောတို့
သန့်ရှင်းသန့်၍၊အရိုးတို့သည်ခြင်ဆီနှင့်ပြည့်
၉ စုံကြလိမ့်မည်၊- သင်သည် ကိုယ်ဥစ္စာ နှင့်အဦး
သီးသော အသီး အနှံ ရှိ သမျှကို ထာဝရ ဘုရား
၁၀ အား ပူဇော်လော့။- သို့ပြုလျှင်၊ သင်၏စပါးကျီ
တို့သည်ကြွယ်ဝ၍၊စပျစ်သီးနယ်ရာကန်ထဲတို့
၁၁ ကိုအသစ်သောစပျစ်ရည်လျှံလိမ့်မည်၊-ငသား၊
ထာဝရဘုရားဆုံးမတော်မူခြင်းကိုမမှတ်ဘဲ မနေ
နှင့်၊သင်၏အပြစ်ကို စစ်ဆေးတော်မူသောအခါ
၁၂ မိတ် မပျက် စေ နှင့်။- ထာဝရ ဘုရား သည် ချစ်
တော် မူ သော သူကို ဆုံးမ တော် မူ တတ် ၏။ နှစ်
သက်တော် မူသော သားကို ဒါဏ်ခတ် တော် မူ
တတ်၏။
၁၃ ဉာဏ် ပညာကို ရှာ၍ ရ သော လူ သည် မင်္ဂ
၁၄ လာရှိ၏။- အကြောင်းမူကား၊ ပညာကုန်သွယ်
ခြင်းသည်ငွေကုန်သွယ်ခြင်းထက်သာ၍ကောင်း
၏၊ ပညာကုန်သွယ်၍ ရသောအမြတ်သည်ရွှေ
၁၅ စင်ထက် သာ၍ ကောင်း ၏။- ပညာသည် ပတ္တ
မြားထက်သာ၍ အဘိုး ထိုက်ပေ၏၊ နှစ်သက်
ဖွယ်သမျှသောအရာတို့သည်ထိုရတနာကိုမပြိုင်
၁၆ နိုင်ကြ။- သူ၏လက်ျာလက်၌ အသက်တာရှည်
သောကာလ၊ လက်ဝဲလက်၌ စည်းစိမ်နှင့်ဂုဏ်
၁၇ အသရေ ရှိ၏။- ပညာ လမ်း တို့ သည် သာယာ
သောလမ်း၊ပညာလမ်းခရီးရှိသမျှတို့သည်ငြိမ်
၁၈ ဝပ်လျက် ရှိကြ ၏။- ပညာကို ကိုင်ဆွဲ သော သူ
သည်အသက်ပင်ကိုရပြီ၊ ထိန်းမသွတ်သောသူ
၁၉ သည်မင်္ဂလာရှိ၏။- ထာဝရဘုရားသည် ပညာ
တော်အားဖြင့်မြေကြီးကိုတည်၍၊ဉာဏ်တော်
အားဖြင့် မိုဃ်းကောင်းကင်ကို ဖွင့်ဆင်တော်မူ
၂၀ ပြီ။- သိပ္ပံအတတ်တော်အားဖြင့်နက်နဲသော အ
ရပ်အက်ကွဲ၍၊ မိုဃ်းတိမ်မှလည်း နှင်းရည်ကျ
၂၁ တတ်၏။-သား၊ပညာရတနာနှင့်သမ္မာသတိကို
သင့် မျက်မှောက် မှ မကွာ စေဘဲ၊ အစဉ် စောင့်

၂၂ ရှောက်သောအ- သို့ပြုလျှင်၊ ထိုရတနာတို့သည်
သင်၏ဝိညာဉ်၌အသက်၊သင်၏လည်ပင်း၌ဂုဏ်
၂၃ အသရေဖြစ်လိမ့်မည်။- သင်သည်ခရီးသွားရာ
၂၄ ၌ဘေးမရှိ၊ခြေမတိုက်မိဘဲသွားလိမ့်မည်။-အိပ်
သောအခါ ကြောက်စရာ မရှိရ။ ကောင်း မွန်စွာ
၂၅ အိပ်ပျော်ရလိမ့်မည်။-လျှင်မြန်သောဘေးနှင့်လူ
ဆိုးတွေ့တတ်သော ပျက်စီးရာဘေးကို ကြောက်
၂၆ စရာမရှိရ။- အကြောင်းမူကား၊ ထာဝရဘုရား
သည်သင်ယုံကြည်ကိုးစားရာ ဖြစ်၍၊ သင်၏ခြေ
ကိုမကျော့မိစေခြင်းငှါစောင့်မတော်မူလိမ့်မည်။
၂၇ ကျေးဇူးကို ခံသင့်သော သူတို့အား ကျေးဇူး
၂၈ ပြုရသောအခွင့်ရှိလျှင်မပြုဘဲမနေနှင့်။-အိမ်နီး
ချင်းကိုပေးစရာရှိလျက်ပင်၊ သွားတော့၊ တဖန်
လာဦးတော့၊ နက်ဖန်မှငါပေးမည်ဟု မပြော
၂၉ နှင့်။- စိုးရိမ်ခြင်းမရှိဘဲသင့်အနားမှာ နေသော
အိမ်နီးချင်း၌ မကောင်းသော အကြံကို မကြံ
၃၀ နှင့်။- သင်၌အပြစ်မပြုသောသူကိုအကြောင်းမ
၃၁ ရှိဘဲရန်မတွေ့နှင့်။- ညှဉ်းဆဲတတ်သော သူ၏
စည်းစိမ်ကိုမတောင့်တနှင့်၊သူလိုက်သောလမ်း
၃၂ တစုံတခုကိုမျှအလိုမရှိနှင့်။-အကြောင်းမူကား၊
ထာဝရဘုရားသည် သဘောကောက်သော သူ
တို့ကိုစက်ဆုပ်ရွံရှာတော်မူ၏၊ဖြောင့်မတ်သော
သူတို့မူကား၊ ကိုယ်တော်နှင့် မိဿဟာယဖွဲ့ရ
၃၃ သောအခွင့်ရှိကြ၏။- မတရားသောသူ၏ နေရာ
သည် ထာဝရဘုရားကျိန် တော်မူခြင်းကို တွေ့
တတ်၏၊ တရားသောသူ၏နေရာကိုကားကောင်း
၃၄ ကြီးပေးတော်မူ၏။- အကယ်စင်စစ် ကဲ့ရဲ့တတ်
သောသူတို့ကို ကဲ့ရဲ့တော် မူ၏။ စိတ်နှိမ့်ချသော
၃၅ သူတို့အားကား၊ကျေးဇူးပြုတော်မူ၏။- ပညာရှိ
သောသူတို့သည် ဘုန်းအသရေကိုအမွေခံရ၍၊
မိုက်သောသူတို့မူကား၊ အရှက်ကွဲခြင်းကိုယမ်း
သွားရကြလိမ့်မည်။

၄

၁ သားတို့၊အဘ၏နည်းဥပဒေသကိုနားထောင်
၍၊ ညာဏ်သဘောကိုနားလည်ခြင်းငှါ စေ့စေ့
၂ မှတ်ကြလော့။- ကောင်းသောဩဝါဒကိုငါပေး
၃ ၏။ငါပညတ်တရားကိုမပယ်ကြနှင့်။- ငါမူကား၊
အဘ၏ရင်နှစ်၊အမိ၌မျက်နှာနူးညံ့၍အချစ်ဆုံးသော
၄ သား ဖြစ်၏။- အဘ သွန်သင်၍ ပြောဆို လေ
သည်ကား၊ငါ့စကားကိုသင်၏နှလုံး၌သွင်း၍၊
ငါပညတ် တို့ကို ကျင့်စောင့် သဖြင့် အသက် ရှင်
၅ လော့။- ပညာကို ဆည်းဖူးလော့။ ညာဏ်ကို
ဆည်းဖူးလော့။ သတိ မထစ်စေနှင့်။ ငါ၏နှုတ်
၆ ထွက်စကားကိုမလွဲမရှောင်နှင့်။-ပညာကိုမစွန့်
နှင့်၊သူသည်သင့်ကိုထိန်းသိမ်းလိမ့်မည်၊သူကို
၇ ချစ်လော့၊သင့်ကိုစောင့်မလိမ့်မည်။-ပညာသည်
အမြတ်ဆုံးသောအရာဖြစ်၏၊ပညာကိုဆည်းဖူး
လော့၊ ဆည်းဖူးသမျှသော ဥစ္စာတို့တွင်ညာဏ်
၈ ကိုဆည်းဖူးလော့။- သူကိုအမြတ် ထားလော့၊
သူသည်သင့်ကိုချီးမြှောက်လိမ့်မည်၊ သူကိုဖက်
၉ ယမ်းလျှင်၊ဂုဏ်အသရေကိုပေးလိမ့်မည်။-သင်
၏ခေါင်းကိုတင့်တယ်သောဦးရစ်နှင့်ပတ်ရစ်၍၊
ဘုန်းကြီးသောသရဖူကိုအပ်နှံလိမ့်မည်။
၁၀ ငါ့သား၊ငါ့စကားကိုနားထောင်နာယူလော့၊သို့
ပြုလျှင်၊ သင့်အသက်နှစ်ပေါင်းများလိမ့်မည်။-
၁၁ ပညာလမ်းကိုငါပြသ၍၊ မှန်သောလမ်းခရီးတို့
၁၂ ၌ သင့်ကိုငါပို့ဆောင်၏။- ရှောက် သွားလျှင်
ကျဉ်းမြောင်းရာ သို့မရောက်၊ ပြေးသော အခါ
၁၃ တိုက်မိ၍မလဲရ။- ဥပဒေသကိုကိုင်ဆွဲလော့၊ မ
လွှတ်နှင့်၊ စောင့်ထားလော့၊ အသက်ရှင်ခြင်း၏
၁၄ အကြောင်းဖြစ်၏။-အဓမ္မလူတို့လမ်းထဲသို့မဝင်
နှင့်၊ ဆိုးယုတ်သောသူတို့နှင့်အတူမလိုက်နှင့်။-
၁၅ သူတို့လမ်းကိုကြည်ရှောင်လော့၊ လိုက်မသွား
၁၆ နှင့်၊ လွှဲ၍ သွားလော့။- သူတို့သည် သူတပါး၌
အပြစ်မပြုရလျှင် မအိပ်တတ်။ တစုံတယောက်
၁၇ သောသူကိုမလဲစေလျှင်အိပ်၍မပျော်တတ်။- ဂ
စရိုက်နှင့်ဆိုင်သောမုန့်ကိုစား၍၊ ညှဉ်းဆဲခြင်း
နှင့်ဆိုင်သောစပျစ်ရည်ကိုသောက်တတ်ကြ၏။-
၁၈ ဖြောင့်မတ်သောသူဖြစ်၏ လမ်းသည်တက်သော
အာရုဏ်ကဲ့သို့ဖြစ်၍၊နေထွက်သည်တိုင်အောင်
၁၉ တိုးပွားထွန်းလင်းတတ်၏။-မတရားသောသူတို့
၏ လမ်းမူကား၊ မှောင်မိုက်ကဲ့သို့ ဖြစ်၍၊ သူတို့
သည် လဲသောအခါ၊ အဘယ်အရာကို တိုက်မိ
သည်ဟုမသိရကြ။
၂၀ ငါ့သား၊ငါ့စကားကိုနားထောင်လော့၊ငါပြော
၂၁ ပြောချက် တို့ကို နား သွင်း လော့။- သင့် မျက်
မှောက်မှမကွာစေနှင့်၊နှစ်လုံးတွင်း၌စောင့်ထား
၂၂ လော့။- အကြောင်းမူကား၊ထိုတရားစကားကို
တွေ့ရသော သူတို့ သည် အသက် ရှင် ခြင်း၊ တ
ကိုယ်လုံးကျန်းမာခြင်းအကြောင်းကိုတွေ့ရပြီ။-
၂၃ နှလုံးသည် အသက်၏ အခြေအမြစ် ဖြစ်သော
ကြောင့်၊ သင်၏ နှလုံးကို အထူး သဖြင့် စောင့်
၂၄ ရှောက်လော့။- ကောက်သော စကားအပြစ်
ပြင်းထန်တတ်သော နှုတ်ခမ်းဖျက်ကို ရှင်းပစ်ဦး

၂၅ ပယ်ရှောင်လော့။- သင်၏ မျက်စိ သည် ဖြောင့် ဖြောင့်ကြည့်၍၊ မျက်ခမ်းတို့သည်တည့်တည့်အောက်ရှုပါ
၂၆ စေလော့။- သင်သွားရာလမ်းကိုချိန်ဆ၍၊ သွား
၂၇ လေရာရာ၌တည်ကြည်ခြင်းရှိစေလော့။- လက်ျာလက်၊ လက်ဝဲဘက်သို့မတိမ်းမယိမ်းနှင့်၊ ဒုစရိုက်ပြုရာလမ်းကိုရှောင်လော့။

၅

၁ ငါ့သား၊ သင်သည် ထမြဲသတိရှိ၍၊ သင်၏နှုတ်ခမ်းသည် ပညာ အသိကို စောင့် မည် အကြောင်း၊ ငါ့ပညာကို မှတ်ကျုံး၍၊ ငါပေးသော
၂ ဉာဏ်သို့သင့်နားကိုလှည့်လော့။- အကြောင်းမူကား၊ အမျိုးပျက်သော မိန်းမ၏ နှုတ် ခမ်းသည် ပျားသကာကဲ့သို့ ယိုတတ်၍၊ သူပြောသော စကား
၃ သည်ဆီထက်ချောသော်လည်း၊- အဆုံး၌ကား၊ လူသည်သင်းခါးပင်ကဲ့သို့ခါး၍၊ သန်လျက်နှင့်
၄ အမျှ ထက် ၏။- သူ၏ ခြေတို့ သည် သေ ခြင်း သို့ ဆင်း၍၊ သူသွားရာလမ်းသည်မရဏာနိုင်ငံ သို့
၅ ရောက် တတ် ၏။- သင် သည် အသက် လမ်းကို မဆင်ခြင် ရအောင်၊ သူ့ထုံးစံ လေ့ တို့သည် တ ရွေ့ရွေ့ ပြောင်းလဲသဖြင့်၊ သင်သည် နားမလည်
၆ နိုင် ရ။- သို့ဖြစ်၍ ငါ့ သား တို့၊ ငါ့ စကား ကို နား ထောင် ကြ လော့၊ ငါ ပြော ပြော ချက်တို့ကို မ
၇ ပယ်ကြနှင့်။- ထိုသို့သောမိန်းမကို ဝေးစွာရှောင်
၈ သွားလော့၊ သူနေရာတံခါးဝသို့မချဉ်းနှင့်။-သို့
၉ မဟုတ်၊ သင်သည်ကိုယ်ဂုဏ်အသရေကိုသူတပါး၌ပေး၍၊ ကိုယ်အသက်ကိုကြမ်းကြုတ်သောသူ
၁၀ ထို့၌အပ်လိမ့်မည်။- တပါးအမျိုးသား တို့ သည်သင်၏စည်းစိမ်နှင့်ပြည့်ဝကြလိမ့်မည်၊ သင်လုပ်၍ရသောဥစ္စာသည် တပါးအမျိုးသား
၁၁ အိမ်သို့ ရောက်လိမ့် မည်။- နောက်ဆုံး၌သင့်အ
၁၂ သား၊ သင့်ကိုယ်ကာယဆွေးမြေ့သောအခါ- ငါ သည်သွန်သင်ခြင်းကိုမုန်းလေပြီတကား၊- ဆုံးမ ခြင်းကို စိတ်နှလုံးထဲမှာမထီမဲ့မြင် ပြုလေပြီတ
၁၃ ကား။- ငါ့ဆရာတို့၏ စကားကို နား မထောင်ဘဲ၊ ငါ့အား သွန်သင်သောသူတို့၏ စကားကို နားမခံ
၁၄ ဘဲနေလေပြီတကား။-စည်းဝေးသောပရိသတ် များ အလယ်၌ ဒုစရိုက် မျိုးကို ကုန်စင် လုသည် တိုင်အောင်၊ ငါပြုလေပြီတကားဟုမြည်တမ်းရ လိမ့်မည်။
၁၅ ကိုယ် ဆိုင်သော ရေအိုးကို သုံး ၍၊ ကိုယ်ရေ တွင်းထဲကထွက်သောစမ်းရေကိုသောက်လော့။-
၁၆ သင်၏ စမ်းရေများပြား၍၊ လမ်းများ အနားမှာ
၁၇ မြစ်သော မြစ် များ ဖြစ်စေ လော့။- ထိုမြစ်များ သည်နှင့်ပေါင်းဖက်၍မဆိုင်စေဘဲ၊ကိုယ်ထံ၌သာ
၁၈ တည်သော ဆိုင်စေလော့။- သင်၏စမ်းရေတွင်း မင်္ဂလာရှိစေ၍၊အသက်ပျိုရွယ်စဉ်ထိမ်းမြားသော ပေါင်း ဖော် သော မ ယား နှင့် အ ရှုင်လန်း ရွှင်
၁၉ လော့။- သူသည်နှစ်သက်ဘွယ်သောသမင်မ၊ နှစ် လိုဘွယ်သော ဆိတ်မကဲ့သို့ဖြစ်၍၊ သူ၏ ရင်သား တို့သည် သင်၏ အလိုဆန္ဒကို အစဉ်ပြေစေ၍၊ သူကိုချစ်သော မိတ်နှင့်အစဉ် ဖမ်းစားလျက်နေ
၂၀ လော့။- ငါ့သား၊ သင်သည်အမျိုးပျက်သောမိန်း မနှင့်အဘယ်ကြောင့် ထမ်းမြူး သနည်း။ ဖြည်းသော မ၏ရင်ပတ်ကို အဘယ်ကြောင့် ဖက်ထမ်း
၂၁ သနည်း။-လူသွားလာသမျှသောလမ်းတို့သည် ထာဝရဘုရား၏မျက်မှောက်တော်၌ရှိ၍၊သွား လာသမျှသောအခြင်းအရာတို့ကိုချိန်ဆတော်မူ
၂၂ ၏။- အဓမ္မလူသည် မိမိပြုသော ဒုစရိုက်အပြစ် ကြိုး၌ဖမ်းမိခြင်း၊ မိမိအပြစ်ကြိုးတို့၌ ချည်နှောင်
၂၃ ခြင်းကို ခံရလိမ့် မည်။- သူ သည် အဆုံးအမကို ကြောင့်မှားယွင်း၍၊ သွန်သင်ခြင်းကိုမခံရ ဘဲသေသွားရလိမ့်မည်။

၆

၁ ငါ့သား၊ သင်သည် အဆွေ ခင်ပွန်း၏ အာမခံ ဖြစ်သော်၎င်း၊ သူတပါးနှင့် လက်ဝါးရိုက်
၂ မိသော်၎င်း- ကိုယ် နှုတ်ထွက် စကား ကြောင့်ကျော့မိပြီ၊ ကိုယ်ပြောသော စကားကြောင့်အမှု
၃ ရောက် လေပြီ။- ငါ့သား၊ သင်သည် အဆွေခင် ပွန်း၏ လက်သို့ ရောက် မိလျှင်၊ ကိုယ်ကို နှုတ်ယူ သောငှါအဘယ်သို့ပြုရမည်နည်းဟူမူကား၊ အဆွေခင်ပွန်းထံသို့ သွား၍၊ ကိုယ်ကိုနှိမ့်ချလျက်
၄ သူကို နှိုးဆော် လော့။- အိပ်မပျော်နှင့်၊ မျက်ခွံ
၅ မှိတ်၍မရိုက်နှင့်။- မုဆိုးလက်မှသမင်ရေယိုကို ၎င်း၊ ငှက်ကိုငှက်နှုတ်ရ သကဲ့သို့ ကိုယ် ကို နှုတ် လော့။
၆ အကျင့်လေ့ရှင်၊ ပုရွက်ဆိတ်ထံသို့သွား၍၊ သူ၏ အပြုအမူ တို့ကို ဆင်ခြင် သဖြင့် ပညာရှိစေ
၇ လော့။- ပုရွက်ဆိတ်သည်ဆရာမရှိ၊ စိုးစံသော
၈ သူမရှိ၊ မင်းမရှိဘဲ လျက်- နွေကာလ၌ စားစရာကို ပြင်ဆင်၍၊ ကောက်ရိတ်ရာကာလ၌ မိမိစားစရာအစာကို စုသိမ်း
၉ တတ်၏။- အိုလူပျင်း၊ သင်သည်အဘယ်မျှ ကာလပတ်လုံးအိပ်လျက်နေလိမ့်မည်နည်း။
၁၀ အဘယ်သောအခါ နိုးလိမ့်မည်နည်း။- တဖန်အိပ် လျက်၊ အောင့်လျက်၊ အိပ်ပျော်...

၁၁ ထိုသို့အိပ်ပျော်နေစဉ်တွင်- ဆင်းရဲခြင်း
သည် ခရီးသွားသောသူကဲ့သို့၎င်း၊ ဥစ္စာပြုန်းတီး
ခြင်းသည်သူရဲကဲ့သို့၎င်းရောက်လာလိမ့်မည်။
၁၂ ဆိုးညစ်သောသူနှင့် မတရားသော သူသည်
ကောက် လိမ် သော စကား၌ ကျင် လည် တတ်
၁၃ ၏။- မျက်တောင်ခတ်လျက်၊ ခြေဖြင့်အမှတ်ပေး
လျက်၊ လက် ချောင်း တို့ဖြင့် သွန်သင် လျက် ပြု
၁၄ တတ်၏။-ကောက်သောစိတ်သဘောနှင့်ပြည့်စုံ
၍၊ မကောင်းသောအကြံကိုအစဉ်ကြံစည်တတ်
၏။ သူတပါးချင်းရန်တွေ့စေခြင်းငှါ ပြုတတ်၏။-
၁၅ ထိုကြောင့် သူသည် အမှတ်တမဲ့ အမှုရောက်၍၊
ကိုးကွယ်ရာမရဘဲရုတ်ချည်းကျိုးပဲ့ပျက်စီးရလိမ့်
မည်။
၁၆ ထာဝရဘုရားမုန်းတော်မူသောအရာခြောက်
ပါးမက၊ စက်ဆုပ် ရွံရှာတော်မူသောအရာခုနစ်
၁၇ ပါးဟူမူကား၊- ထောင်လွှားသော မျက်နှာတ
ပါး၊ မုသာ၌ကျင်လည်သောလျှာတပါး၊ အပြစ်
မရှိသော သူ၏ အသက်ကို သတ်သော လက်တ
၁၈ ပါး၊- မကောင်းသော အကြံ ကို ကြံစည် သော
နှလုံးတပါး၊ အပြစ်ပြုရာသို့ အလျင်အမြန်ပြေး
၁၉ တတ်သောခြေတပါး၊- မုသာစကားကိုပြော၍
မမှန် သော သက် သေ တပါး၊ အပေါင်း အဖော်
ချင်း ရန် တွေ့ စေခြင်းငှါ ပြုတတ်သော သူတပါး
တည်း။
၂၀ ငါ့သား၊ အဖ၏ ပညတ် စကားကို နားထောင်
၂၁ လော့။ အမိပေးသောတရားကိုမပယ်နှင့်။- နှစ်
လုံးပေါ်မှာ အမြဲ ချည်၍၊ လည်ပင်း၌ ဆွဲထား
၂၂ လော့။- သင်သည် အခြားသို့ သွားသောအခါ၊
ထိုပညတ်တရားသည် ထိန်းပြလိမ့်မည်။ အိပ်
သောအခါ သင့်ကိုစောင့်လိမ့်မည်။ နိုးသောအ
၂၃ ခါသင်နှင့် နှုတ်ဆက် လိမ့်မည်။- အကြောင်းမူ
ကား၊ ပညတ်တော်သည်မီးခွက်ဖြစ်၏။ တရား
တော် သည် အလင်း ဖြစ်၏။ အပြစ်ကို ပြ တတ်
သောဆုံးမစကားသည်အသက်လမ်းဖြစ်၏။-
၂၄ ဆိုးသော မိန်းမနှင့် ၎င်း၊ အမျိုးပျက်သော မိန်းမချော့
မော့ တတ်သော နှုတ်နှင့် ၎င်း လွှတ်စေ ခြင်းငှါ၎င်း၊
၂၅ သင့်ကို စောင့်ရှောက်ရာ ဖြစ်သတည်း။- ထိုသို့သော
မိန်းမသည်အဆင်းလှသော်လည်း၊ တပ်မက်သော
စိတ်မရှိနှင့်။ သူသည်မျက်ခမ်းထိုးဖြင့် သင့်ကိုမ
၂၆ ဖျော့မိစေနှင့်။- အကြောင်းမူကား၊ ပြည်တန်
ဆာမကိုမှီဝဲသော ယောက်ျားသည် ဆင်းရဲ၍၊
မုန့်တလုံးကိုသာရတတ်၏။ မျောက်မထားသော
မိန်းမသည်လည်း မြတ်သောအသက်ကိုဖမ်းတတ်
၂၇ ၏။- လူသည်အဝတ်မလောင်ဘဲမီးကိုပိုက်ဆောင်
၂၈ နိုင်သလော။- ခြေမလောင်ဘဲမီးခဲပေါ်မှာ နင်း
၂၉ နိုင်သလော။-သူ့မယားထံသို့ဝင်သောသူသည်
ထိုနည်းတူဖြစ်၏။ သူ့မယားကိုပြစ်မှားသောသူ
မည်သည် ကား၊ အပြစ် နှင့် မကင်း မလွတ် နိုင်
၃၀ ရာ။- ငတ်သိပ်သောစိတ်ပြေစေခြင်းငှါ၊ ခိုးသော
၃၁ သူပင်အပြစ်မလွတ်ရ။- တွေ့မိလျှင်ခုနစ်ဆပြန်
ပေးရမည်။ ကိုယ်အိမ်၌ရှိသမျှသောဥစ္စာတို့ကို
၃၂ ရှော်ရမည်။- သူ့မယား ကို ပြစ်မှား သောသူ
သည်ဉာဏ်မရှိ၊ ထိုသို့ပြုသောသူသည် မိမိအ
၃၃ သက်ကိုဖျက်ဆီးတတ်၏။ နာကျည်းစွာထိမိုက်
ခြင်းနှင့်အသရေရှုတ်ချခြင်းကိုခံရလိမ့်မည်။ သူ
၃၄ ၏အရှက် ကွဲခြင်းသည်မပြေနိုင်။- အကြောင်း
မူကား၊ ယောက်ျားသည် မယားကို မယုံသော
စိတ်ရှိလျှင်၊ ပြင်းထန်စွာအမျက်ထွက်တတ်၏။
အပြစ်ပေးချိန်ရောက်သောအခါ သနားခြင်းမရှိ
၃၅ တတ်။- ရှော် ပြစ်ငွေ မည် မျှ ကို ပမာဏ မပြု
တတ်။ များ စွာ သော လက် ဆောင် တို့ ကို ပေး
သော်လည်း၊ စိတ်မပြေတတ်။

၇

၁ ငါ့သား၊ ငါ့စကား ကို ရှေ့ ရှေ့ နား ထောင် ၍၊
၂ ငါ့ပညတ် ထုံးကိုသင်၌ သိုထားလော့။- ငါ့ပညတ်
ထုံးကိုစောင့်ရှောက်၍အသက်ရှင်လော့။ ငါပေး
သော တရားကို ကိုယ် မျက် ဆန် ကဲ့သို့ စောင့်
၃ လော့။- သင်၏ လက်ချောင်းတို့၌ ချည်ထား၍၊
သင်၏ နှလုံး အင်း စာရင်း၌ ရေး မှတ် လော့။-
၄ ပညာကို ထိုယ် နှမဟူ၍၎င်း၊ ဉာဏ်ကိုကိုယ်
၅ ဆွေမျိုးဟူ၍၎င်းခေါ်လော့။-သို့ပြုလျှင်သူတို့
သည် အမျိုး ပျက်သောမိန်းမ၊ နှုတ် နှင့် ချော့မော့
တတ်သောပြည်တန်ဆာမိန်းမလက်မှသင့်ကိုကယ်
ထိန်းကြလိမ့်မည်။
၆ ငါ့အိမ်ပြတင်းပေါက် ကြား၌ ငါကြည့်၍၊ မြင်ရ
၇ သောအမှုဟူမူကား၊- ဉာဏ်တိမ်သောအမျိုး
သားချင်းစုကို ငါကြည့်ရှုစဉ်တွင်၊ ဉာဏ်မရှိ
၈ သောလုလင်တယောက်သည်- ထိုသို့သောမိန်းမနေ
ရာ ထောင့်နားသို့ ရှောက်သွား၍ သဖြင့်-
၉ မိုးချုပ်၍ ညဦးအချိန်၊ ညည့်နက်သော အ
ချိန် ရောက် သော အခါ၊ ထို မိန်းမ နေရာ လမ်း သို့
၁၀ လိုက်လေ၏။- ပြည်တန်ဆာ အဝတ်ကိုဝတ်၍၊
၁၁ ဆန်းပြားသောမိန်းမသည် ထိုသူကိုကြိုဆို၏။-ထို
မိန်းမသည်ကျယ်သောအသံနှင့် မိုက်မဲသောစိတ်

သဘောရှိ၏၊ ကိုယ်အိမ်၌မနေ၊ ထည်တတ်၏။-
၁၂ ခဏအိမ်ပြင်၊ ခဏထမ်းထဲမှာ နေလျက်၊ ထမ်း
ထောင့်နား ရပ်ရပ်၌ ချောင်းမြောင်း၍ ကြည့်တတ်
၁၃ ၏။- ထိုလုလင်ကိုတွေ့သောအခါ၊ ရဲသောမျက်နှာ
၁၄ နှင့်ဖမ်း၍ နမ်းရှုပ်လျက်- ငါ၌မိဿဟာယပူ
ဇော်သကာရှိ၏၊ ယနေ့ ငါ့ဂတိဝတ်ကိုငါဖြေပြီ။-
၁၅ ထိုကြောင့်သင့်ကိုကြိုဆိုအံ့သောငှါ ငါထွက်လာ
၁၆ ပြီ၊ သင့်မျက်နှာကို ကြိုး‌စားရှာ၍ တွေ့ပြီ။- ငါ့
တင်ကို ချယ် လှယ် သော ဖါပ်ရာ ခင်း နှင့် ဝင်၊
၁၇ အဲဂုတ္တု ပိတ်ချောနှင့်ဝင် ဖုံးဆင်ပြီ။- မွေ့ရာ
၁၈ ကိုမရနံ့၊ အကျော်၊ သစ်ကြံပိုးနှင့် ထုံပြီ။- လာပါ၊
မိုးလင်းသည်တိုင်အောင် ကာမရာဂစိတ်ကို
ဖြေကြကုန်အံ့၊ မေတ္တာမှု၍ မွေ့လျော်ကြကုန်
၁၉ အံ့။- ယောက်ျားသည် အိမ်မှာမရှိ၊ ငွေအိတ်ကို
၂၀ ဆောင်လျက်ဝေးသောအရပ်သို့ သွားပြီ။- ပွဲနေ့
၂၁ ရောက်မှ သာ ပြန် လာ လိမ့် မည် ဟု- ချော့ယွယ်
သောစကားနှင့်ထိုသူကိုသွေးဆောင်၍ချော့မော့
၂၂ တတ်သော နှုတ်ခမ်း နှင့် နိုင်သဖြင့်- နွားသည်
အသေခံရာသို့ လိုက် သကဲ့သို့ ၎င်၊ သမင်ဖရယ်
သည် မိမိအသည်း၌ မြှား မထိုး မှီတိုင် အောင်၊
၂၃ ဖမ်းမိရာထဲသို့ဝင်သကဲ့သို့၎င်- ငှက်သည်မိမိအ
သက် ဆုံးစေခြင်းငှါ ထောင်မှန်းကို မရိပ်မိဘဲ၊
ကျော့ကွင်းထဲသို့အလျင်အမြန် ဝင်သကဲ့သို့၎င်၊
လုလင်သည်ထိုမိန်းမနောက်သို့ချက်ချင်းလိုက်သွား
တတ်၏။
၂၄ ထိုသို့ဖြစ်၍သားတို့၊ ငါ့စကားကိုနားထောင်၍
ငါပြောသမျှ ချက်ထိုကို မှတ်ကျုံး ကြ လော့။-
၂၅ ယုံသို့သော မိမ္မနေရာလမ်းကို စိတ်မငဲ့ကွက်နှင့်၊
ဘူကျူး ထည် သော လမ်း ခရီးသို့ လွှဲ၍ မလိုက်
၂၆ နှင့်။- အကြောင်းမူကား သူသည်စစ်သူရဲအများ
ယုံကို လှည်း လေပြီ၊ ခွန်အား ကြီးသော သူအ
၂၇ များတို့ကိုသတ်လေပြီ။- သူ၏အိမ်သည်သေမင်း
၏ဘုံဗိတ်မှန်သို့ဆင်း၍၊ မရဏာနိုင်ငံသို့ရောက်
သောလမ်းဖြစ်၏။

၈

၁ ဉာဏ်ပညာသည်ခေါ်၍၊ မိမိအသံကို လွှင့်
၂ သည်မဟုတ်လော။- မြင့်သောအရပ်ထိပ်၌၎င်၊
၃ လမ်း ခရီးအနား၌ ၎င်ရပ်နေ၏။- ကြီးသောတံ
ခါးဝ၊ မြို့တံခါး၊ အိမ်တံခါးဝမှာကျွေးကြော်၍-
၄ ယောက်ျားလူတို့၊ သင်တို့အားငါခေါ်၏၊ လူသားတို့
၅ အားအသံကိုငါလွှင့်၏။- ဉာဏ်တိမ်သော သူ
တို့၊ ပညာတရားကိုနားလည်ကြလော့၊ လူမိုက်
၆ တို့၊ ထိုးထွင်းသော ဉာဏ် ရှိကြ လော့။- နားထောင်ကြ၊ မြတ်သော စကား ကိုငါပြောမည်။
၇ မှန်သောတရားစကားကိုငါနှုတ်မြွက်မည်။- ငါ့
နှုတ်ထွက် စကားသည် သစ္စာ တရား နှင့် သာ
ဆိုင်၍၊ ငါ့နှုတ်ခမ်းတို့သည်ဒုစရိုက်ကိုစက်ဆုပ်
၈ ရွံရှာ၏။- ငါပြောပြော သမျှသော စကား တို့
သည် ဖြောင့်မတ်၍၊ ကောက်သော သဘော
ဖောက်ပြန် သောသဘောနှင့် ကင်းစင်ကြ၏။-
၉ နားလည်သောသူ၌ အထုံးစုံရှင်းလင်း၍၊ ပညာ
၁၀ ကို ရသော သူတို့အား ထုတ်မှန် ကြ၏။- ငွေအ
ရင်၊ ငါ့နည်းကိုရင်၊ မြတ်သော ရွှေအရင်၊ ပညာ
၁၁ အတတ်ကို ၎င် ခံယူ ကြ လော့။- အကြောင်းမူ
ကား၊ ပညာသည်ပတ္တမြားထက်သာ၍မြတ်၏၊
နှစ်သက်ဖွယ် သမျှသောအရာတို့သည် ထိုရတ
နာကို မပြိုင်နိုင်ကြ။
၁၂ ငါဉာဏ်ပညာသည် သတ္တိ နှင့် ပေါင်း
၍၊ လိမ္မာသောသိပ္ပံအတတ်များကို ဖော်တတ်
၁၃ ၏။- ထာဝရဘုရားကိုကြောက်ရွံ့သောသဘော
ကား၊ ဒုစရိုက်ကိုမုန်းသောသဘောတည်း၊ မာန
ထောင် လွှား ခြင်း၊ ဝေါ်ကြွား ခြင်း၊ မကောင်း
သောလမ်းသို့ လိုက်ခြင်း၊ ကောက်သောစကား
၁၄ ဖြင့်ပြောဆိုခြင်းတို့ကို ငါမုန်း၏။- အကြံပေးနိုင်
သောအစွမ်းနှင့် ပညာရတနာသည်ငါ၌ရှိ၏၊ ငါ
သည်ဉာဏ်ဖြစ်၍ အစွမ်းသတ္တိနှင့် ပြည့်စုံ၏။-
၁၅ ငါအားဖြင့်ရှင်ဘုရင်တို့သည်စိုးစံရသောအစွမ်း
မင်းအရာရှိတို့သည်ဆုံးဖြတ်ရသောအစွမ်းရှိကြ
၁၆ ၏။- ငါအားဖြင့်မင်းသား၊ မှူးမတ်၊ တရားသူကြီး
အပေါင်းတို့သည် အစိုးရသောအစွမ်းရှိကြ၏။-
၁၇ ငါ့ကို ချစ်သောသူတို့ကို ငါချစ်၏၊ ငါ့ကိုကြိုးစား၍
၁၈ ရှာသောသူတို့သည်တွေ့တတ်ကြ၏။- ငါ၌စည်း
စိမ်နှင့်ဂုဏ်အသရေရှိ၏၊ မြဲသောစည်းစိမ်နှင့်
၁၉ ဖြောင့်မတ်ခြင်းပါရမီရှိ၏။- ငါပေးသောအကျိုး
သည် ရွှေထက်မက၊ ရွှေစင်ထက် သာ၍မြတ်၏၊
ငါကြောင့်ရသော အခွန် အလျှာသည် ငွေထော်
၂၀ ထက်သာ၍ မြတ်၏။- ငါသည် ဖြောင့်မတ်ခြင်း
လမ်း၊ တရားသဖြင့် စီရင်ခြင်းလမ်းအလယ်၌
၂၁ ရှောက် သွားသည်ဖြစ်၍၊- ငါ့ကိုချစ်သောသူတို့
သည် အမွေခံရသော အစွင့် နှင့် သူတို့ ဘဏ္ဍာ
တိုက်ပြည့်ဝစေသောအခွင့်ကိုငါပေးတတ်၏။
၂၂ ထာဝရဘုရားသည် ရှေးအမှုတော်ကိုမပြုမီ၊
၂၃ ထွက်ကြွတော်မူစကပင်ငါ့ကိုပိုင်တော်မူ၏။- မြေ
ကြီးမဖြစ်မီ၊ ရှေဦးစွာသော ကာလ၊ အစမှ

၂၃ ထမှစ၍ငါသည်ဘိသိတ်ခံပြီ။-နက်နဲသောပင်
လယ်မဖြစ်၊ရေနှင့်ကြွယ်ဝသောစမ်းရေတွင်းမ
၂၄ ဖြစ်မှီငါကိုဖြစ်ပွားစေတော်မူ၏။- တောင်တို့မ
၂၅ တည်၊ တောင်ငယ်မဖြစ်မှီ၊- မြေကြီးနှင့် လယ်
တောများကိုမဖန်ဆင်း၊ အဦးဆုံးသော မြေမှုန့်
၂၆ ကိုမျှမဖန်ဆင်းမှီ၊ ငါကို ဖြစ်ပွားစေတော်မူ၏။-
၂၇ မိုဃ်းကောင်းကင်ကို ပြင်တော်မူသောအခါ ငါ
ရှိ၏။သမုဒ္ဒရာမျက်နှာကို ကန့်ကွက်သောအမှု၊-
၂၈ အထက်မိုဃ်းတိမ်ကိုတည်စေသောအမှု၊-နက်
နဲသော အရပ်၌ စမ်းရေ ပေါက်တို့ကို ခိုင်ခံ့စေ
၂၉ သောအမှု၊- သမုဒ္ဒရာ၌ ကန့်ကွက်သောအပိုင်း
အခြားကို ရေမလွန်း ရမည်အကြောင်း စီရင်
သောအမှု၊ မြေကြီးတိုက်မြစ်တည်သောအမှုတို့
၃၀ ကို ပြီးစီးစေတော်မူသောအခါ- ငါသည်ကျွေး
မွေးတော်မူသော သားကဲ့သို့၊ အထံ တော် ပါး
တွင်နေ၍၊ အစဉ် မပြတ် မွေ့လျော်တော် မူရာ
ဖြစ်၏။ ရှေ့တော်၌အစဉ်မပြတ် ကစားလျက်-
၃၁ ဖန်ဆင်းတော်မူသော မြေကြီး တပြင်လုံး ထွင်
၌ ရွှင်လန်းလျက်၊ လူသားတို့ နှင့် ပေါင်းဖော်၍
ပျော်ပါးလျက်နေ၏။
၃၂ သို့ဖြစ်၍သားတို့၊စကားကိုနားထောင်ကြ
လော့။ ငါ၏လမ်းများကိုစောင့်ရှောက်သောသူ
၃၃ တို့သည်မင်္ဂလာရှိကြ၏။- ငါဆုံးမခြင်းကိုမပယ်
၃၄ ကြနှင့်။ နားထောင်၍ ပညာရှိကြလော့။- ငါ
တံခါးကိုကြား၍ ငါ့တံခါးနားမှာနေ့တိုင်းစောင့်
လျက်၊ တံခါးတိုင်နားမှာ မျှော်လင့် လျက် နေ
၃၅ သောသူသည်မင်္ဂလာရှိ၏။-ငါ့ကိုရှာ၍တွေ့သော
သူသည် အသက်ကို တွေ့၏။ ထာဝရ ဘုရား၏
၃၆ ကျေးဇူးတော်ကိုလည်း ခံရ၏။- ငါ့ကို ပြစ်မှား
သောသူမူကား၊ မိမိအသက်ကိုညှဉ်းဆဲ၏ ပြစ်မှား
၏။ ငါ့ကိုမုန်းသောသူအပေါင်းတို့သည်သေခြင်း
ကိုချစ်ကြ၏။

၉

၁ ဉာဏ်ပညာသည်အိမ်တိုင်ခုနစ်တိုင်ကိုခုတ်
၂ ၍၊ မိမိနေရာအိမ်ကိုဆောက်လေပြီ။- သူ၏အ
ကောင်များကိုသတ်၍၊ စပျစ်ရည်ကိုဖော်ပြီးမှ
၃ စားပွဲကို ခင်းလေပြီ။- ကျွန်မတို့ကို စေလွှတ်၍၊
မြို့တွင် အမြင့် ဆုံးသော အရပ်တို့၌ ကြွေးကြော်
၄ သည်ကား၊- ဉာဏ်တိမ်သောသူသည်ဤ
၅ အရပ်သို့ ဝင်စေ။ ထိုပညာမရှိသောသူ၊- လာ
လော့။ ငါ့မုန့်ကို စားလော့၊ ငါဖော်သော စပျစ်
၆ ရည်ကိုသောက်လော့။- မိုက်သောသူကိုရှောင်
၍အသက်ရှင်းသာရလော့၊ပညာလမ်းသို့လိုက်
လော့ဟုဆိုသတည်း။
၇ မထီမဲ့မြင်ပြုသောသူကို ဆုံးမသောသူသည်အ
ရှက်ကွဲခြင်းကိုရင်၊ လူဆိုးကို အပြစ်ပြသောသူ
၈ သည် ကဲ့ရဲ့ခြင်းကိုရင်ခံရလိမ့်မည်။- မထီမဲ့မြင်
ပြုသောသူကိုမဆုံးမနှင့်၊ သင့်ကို မုန်းလိမ့်မည်။
ပညာရှိကို အပြစ်ပြလော့၊ သူသည်သင့်ကို ချစ်
၉ လိမ့်မည်။- ပညာရှိသောသူကို ဆုံးမလျှင်၊ သူ
သည်သာ၍ပညာရှိလိမ့်မည်။ဖြောင့်မတ်သော
သူကို သွန်သင်လျှင်၊ သူသည်သိပ္ပံအတတ်ထိုး
၁၀ ပွားလိမ့်မည်။- ထာဝရဘုရားကို ကြောက်ရွံ့
သောသဘောသည် ပညာ၏မူလ အမြစ် ဖြစ်၏။
သန့်ရှင်းတော်မူသော ဘုရားကို သိတတ်သော
၁၁ သဘော သည် ဉာဏ် ဖြစ်၏။- အကြောင်းမူ
ကား၊ ငါ့အားဖြင့်၍၊ သင်၏နေ့ရက်ကာလနှင့်
အသက် အပိုင်းအခြား နှစ်ပေါင်း ကာလတိုး
၁၂ ပွားလိမ့်မည်။- သင်သည်ပညာရှိလျှင်၊ ကိုယ်
တိုင်အကျိုးကိုခံရလိမ့်မည်။ မထီမဲ့မြင်ပြုလျှင်
ကိုယ်တိုင်သာအပြစ်ကိုခံရလိမ့်မည်။
၁၃ မိုက်သောမိန်းမသည်စကားသံကျယ်၍ဉာဏ်
၁၄ တိမ်သဖြင့်အလျှင်းမသိတတ်။- မိမိအိမ်တံခါး
နားတွင် မြို့မြင့်ရာအရပ် အနေအထိုင်ပေါ်မှာ
၁၅ ထိုင်လျက်- လမ်း၌တည့်တည့် ခရီးသွားသော
၁၆ သူတို့ကိုခေါ်၍- ဉာဏ်တိမ်သောသူသည်ဤ
၁၇ အရပ်သို့ဝင်စေ။ထိုပညာမရှိသောသူ၊-ခိုးသော
ရေသည် ချို၏။ တိတ်ဆိတ် စွာ စားသော မုန့်
၁၈ လည်း မြိန်သည်ဟု ဆိုတတ်၏။- ထို အရပ်၌
သင်းချိုင်းသားရှိကြောင်း၊ ထိုမိန်းမ၏ ဧည့်သည်
တို့သည်မရဏာနိုင်ငံအနက်ဆုံး၌ နေကြောင်း
ကို၊ထိုယောကျ်ားသည်မသိမမှတ်။

၁၀

၁ ရှောလမုန် မင်း၏ သုတ္တံ စကား ဟူမူကား၊
ပညာရှိသော သားသည် အဖဝမ်းမြောက်ခြင်း
အကြောင်း၊ မိုက်သော သားမူကား၊ အမိဝမ်း
၂ နည်းခြင်းအကြောင်းကို ဖြစ်စေတတ်၏။- မ
တရားသော ဥစ္စာ ဘဏ္ဍာသည် အကျိုး မရှိ။
ဖြောင့်မတ်ခြင်းပါရမီမူကား၊ သေခြင်းမှကယ်
၃ တင်တတ်၏။-ဖြောင့်မတ်သောသူကိုငတ်၍သေ
စေခြင်းငှါ၊ ထာဝရဘုရားသည်အခွင့်ပေးတော်
မမူ။ မတရားသောသူတို့၏ အဓမ္မအမှုကိုကား
၄ ဖျက်ဆီးတော်မူ၏။- ပျင်းရိသောသူသည် ဆင်း
ရဲခြင်း၊ လုံ့လဝီရိယ ရှိသောသူသည် ကြွယ်ဝ

၅ ခြင်းသို့ရောက်တတ်၏။– အသီးသီးသောအမှုန်
ပွဲသိမ်းထုသောသူသည် ပညာရှိသောသားဖြစ်
၏၊ ပေါ်းရိတ်ရာ ကာလ၌ အိပ် တတ်သော သူမူ
၆ ကား၊ အရှက်ခွဲတတ်သောသားဖြစ်၏။– တရား
သော သူ၏ ခေါင်းပေါ်မှာ မင်္ဂလာ သက်ရောက်
တတ်၏၊မတရားသောသူ၏ နှုတ်ကိုကားဖျက်ဆီး
၇ ခဲခြင်း၊ အပြစ် သည် ဖိတ် လိမ့် မည်။– တရား
သောသူကို အောက်မေ့ သောအခါ ကောင်းကြီး
ပေးတတ်၏၊ မတရားသောသူ၏နာမမူကားပုပ်
၈ ပျက်တတ်၏။–လိမ္မာသောသူသည် ပညတ်တရား
ကို ခံတတ်၏၊ စကားများ သော ထု မိုက် မူကား
၉ ဆုံးရှုံးတတ်၏။– ဖြောင့်မတ်ခြင်းလမ်းသို့လိုက်
သော သူ သည် အနှင်း မှန် လိမ့် မည်၊ ကောက်
သော လမ်းသို့ လိုက် သော သူမူကား၊ သဘော
၁၀ ထင်ရှား လိမ့်မည်။– မျက်စိမှိတ်သော သူသည်
စိတ်ကို ပူစေတတ်၏၊ စကားများသော ထု မိုက်
၁၁ မူကား ဆုံးရှုံးတတ်၏။– ဖြောင့် မတ်သော သူ၏
နှုတ် သည် အသက် ရေ တွင်း ဖြစ် ၏၊ မတရား
သောသူ၏ နှုတ်ကိုကား၊ ဖျက်ဆီးခြင်း အပြစ်
၁၂ သည် ဖိတ်လိမ့်မည်။– ရန်းသော စိတ်သည်ရန်
တွေ့ရာသို့ တိုက်တွန်း တတ်၏၊ ချစ်သော စိတ်မူ
ကား၊ ခပ်သိမ်းသောအပြစ်တို့ကို ဖုံးအုပ်တတ်
၁၃ ၏။–ဉာဏ်ကောင်းသောသူသည်ပညာစကား
ကိုပြောတတ်၏၊ဉာဏ်မဲ့သောသူ၏ကြောအဖို့
၁၄ မူကားကြိမ်လုံးရှိ၏။– ပညာရှိသောသူတို့သည်
ကြားသိသောအရာကိုသိမ်းထားတတ်၏၊မိုက်
သောသူ၏နှုတ်မူကား၊ အကျိုးနည်းခြင်းနှင့်နီး
၁၅ စပ်၏။– ငွေရတတ်သောသူ၏ စည်းစိမ်သည်သူ
၏မြိုင်ခံ့သောမြို့ဖြစ်၏၊ ဆင်းရဲသားတို့၏ ဆင်းရဲ
ခြင်းမူကား၊ သူတို့၏ အကျိုးနည်း ကြောင်းဖြစ်
၁၆ ၏။–ဖြောင့် မတ်သော သူ၏အလုပ်အကိုင်သည်
အသက် နှင့်ဆိုင်၊ မတရားသော သူ ၏ အကျိုးစီး
ပွားသည်အပြစ်နှင့်ဆိုင်ရှိ၏။
၁၇ နည်းဥပဒေသကိုစောင့်ရှောက်သောသူသည်
အသက် လမ်းသို့ လိုက် တတ် ၏၊ ဆုံးမ ခြင်း ကို
၁၈ ငြင်းပယ်သောသူမူကား လမ်းလွဲတတ်၏။– အ
မြိုး ဖွဲ့သော သဘောကို မုသာ နှုတ်ခမ်း ဖြင့်ဖုံး
ထားသော သူ၊ သူ အသရေ ပျက် အောင် ပြော
တတ် သော သူသည် မိုက်သော သဘော ရှိ၏။–
၁၉ စကားများသောအားဖြင့် အပြစ်ပါတတ်၏၊ မိမိ
နှုတ်ကိုချုပ်တည်းသောသူမူကား ပညာရှိ၏။–
၂၀ ဖြောင့် မတ်သောသူ၏ လျှာသည် ငွေစင်နှင့်တူ
၏၊ ဆိုးသောသူ၏နှလုံးမူကားအဖိုးမထိုက်။–
၂၁ ဖြောင့်မတ်သော သူ၏ နှုတ်ခမ်းတို့သည် လူအ
များကိုကျွေးတတ်၏၊ မိုက် သော သူ တို့မူကား
၂၂ ဉာဏ် မရှိသောကြောင့်သေကြလိမ့်မည်။–ထာ
ဝရဘုရား၏ကောင်းကြီးမင်္ဂလာသည်စည်းစိမ်
ကိုဖြစ်စေတတ်၏၊ ထိုစည်းစိမ်နှင့်ထည်း၊ ဝမ်း
နည်းခြင်း အကြောင်းကို ရောနှော တော်မမူ။–
၂၃ မိုက်သောသူသည်အပြစ်ပြုရာ၌ ပျော်မွေ့တတ်
၏၊ ဉာဏ် ကောင်း သော သူမူ ကား ဆင် ခြင်
၂၄ တတ်၏။–မတရားသောသူကြောက်တတ်သော
အမှုသည်သူ့အပေါ်သို့ရောက်လိမ့်မည်၊ဖြောင့်
မတ် သောသူ တောင့် တသော အကျိုးကိုကား
၂၅ ဘုရားသခင်ပေးတော်မူမည်။–မတရားသောသူ
သည် လွန် သွားသော လေဘွေ ကဲ့သို့ ပျောက်
တတ်၏၊ ဖြောင့်မတ်သောသူမူကား၊ မြဲမြံသော
၂၆ တိုက်မြစ်ဖြစ်၏။–ပုံးရည်သည်သွားနှင့်ဆိုင်၊မီးခိုး
သည်မျက်စိနှင့် ဆိုင်သကဲ့သို့၊ ပျင်းရိသောသူ
၂၇ သည်စေလွှတ်သောသူနှင့်ဆိုင်၏။–ထာဝရဘုရား
ကိုကြောက်ရွံ့သော သဘောသည်အသက်တာ
ကိုရှည်စေတတ်၏၊မတရားသောသူ၏နှစ်ပေါင်း
၂၈ ကာလမူကား၊ တိုတတ်၏။– ဖြောင့်မတ်သောသူ
၏ မျှော် လင့် ခြင်း သည် ဝမ်း မြောက် စရာ အ
ကြောင်းဖြစ်၏၊ ဆိုးသောသူ၏ မျှော်လင့်ခြင်းမူ
၂၉ ကား ပျောက်ပျက် လိမ့်မည်။– ထာဝရ ဘုရား၏
တရား လမ်း သည် ဖြောင့် မတ် သော သူ မြို့ခံ့
ခြင်း အ ကြောင်း ဖြစ် ၏၊ မတရား သဖြင့် ကျင့်
သောသူတို့မူကား ပျက်စီးခြင်းသို့ ရောက်ရကြ
၃၀ လိမ့်မည်။– ဖြောင့်မတ်သောသူသည် အစဉ်မ
ပြတ် နေရာမှ မရွေ့ရ၊ မတရား သော သူမူကား
၃၁ မြေပေါ်မှာ အတည်မကျရ။– ဖြောင့် မတ်သော
သူ၏နှုတ်မှ ပညာစကားထွက်တတ်၏၊ ကောက်
လိမ်သော လျှာမူကား၊ အဖြတ်ခံရ လိမ့်မည်။–
၃၂ ဖြောင့် မတ် သော သူ၏ နှုတ် ခမ်း တို့ သည် နှစ်
သက် ဖွယ် သော အရာကို သိကျွမ်း တတ်၏၊ မ
တရားသောသူတို့မူကား ဆန့်ကျင်သောစကား
ကိုပြောတတ်ကြ၏။

၁၁

၁ မမှန်သော ချိန်ခွင်သည် ထာဝရ ဘုရား စက်
ဆုပ်ရွံရှာတော်မူဖွယ်၊ မှန်သောအလေးမူကား
၂ နှစ်သက်တော် မူဖွယ်ဖြစ်၏။– မာနထောင်လွှား
သောအခါ အရှက်ကွဲခြင်း ဖြစ်တတ်၏၊ စိတ်နှိမ့်
၃ ချသောသူတို့၌ကား ပညာရှိ၏။–ဖြောင့်သောအ

အောသည့်ဖြောင့်မတ်သောသူတို့ကိုပဲ့ရှင်ထတတ်
၏၊ ကောက်သော သဘော မူကား၊ သွန်ကျူး
၄ သောသူတို့ကို ဖျက်ဆီးတတ်၏၊– အမျက်ပေါ်သ
ဖွတ်အောကာလ၌ဥစ္စာသည်အကျိုး
ပေးနိုင်၊ ဖြောင့်မတ်ခြင်း ပါရမီ မူကား၊ သေ
၅ ခြင်းမှကယ်တင်တတ်၏၊– ဖြောင့်မတ်ခြင်းပါရ
မီ သည် စုံလင် သော သူတို့ကို ပဲ့ပြင် တတ် ၏၊ မ
တရားသော သူမူကား၊ မိမိ မတရားသော အမှု
၆ အားဖြင့် ဆုံးရှုံးတတ်၏၊– ဖြောင့်မတ်သော သူ
တို့၏ ဖြောင့် မတ်သော သဘော သည် သူတို့ကို
ကယ်တင်တတ်၏၊သွန်ကျူးသောသူတို့မူကား၊
၇ မိမိတို့အစမှု၌ကျော့ခွမိတတ်ကြ၏၊– ဆိုးသောသူ
သည် သေသော အခါ မျှော်လင့် ခြင်း၊ ပျက် တတ်
၏၊မတရားသောသူ၏တောင့်တခြင်းလည်းပျက်
၈ တတ်၏၊– ဖြောင့်မတ်သော သူသည် ဒုက္ခထဲက
ထွတ်မြောက်၍၊သူကိုယ်စားမတရားသောသူခံ
၉ ရ၏၊–အဓမ္မလူသည်မိမိနှုတ်ဖြင့်မိမိအိမ်နီးချင်း
ကိုဖျက်တတ်၏၊တရားသောသူမူကား၊ပညာအ
၁၀ တတ်အားဖြင့်အမှုလွတ်တတ်၏၊– တရားသော
သူသည် ကောင်းစားသောအခါ တမြို့လုံး ဝမ်း
မြောက်ခြင်းရှိ၏၊ မတရားသောသူသည် ဆုံးရှုံး
၁၁ သောအခါမူကား၊ကြွေးကြော်ခြင်းရှိ၏၊–တရား
သောသူသည် ကောင်းကြီး ပေးသောအားဖြင့်
သူ၏နေရာမြို့သည်ချီးမြောက်ခြင်းသို့ရှင်၊မတရား
သောသူ၏ နှုတ်ဖြင့် မြို့ ဖျက်ခြင်းသို့ရှင် ရောက်
၁၂ တတ်၏၊– ပညာခဲ့သောသူသည်မိမိအိမ်နီးချင်း
ကို မထီမဲ့မြင်ပြုတတ်၏၊ ဉာဏ် ကောင်းသော
၁၃ သူမူကား၊ ထိတ်ဆိတ်စွာ နေတတ်၏၊– ထည့်၍
စကားများ၍သွားပြောတတ်သော သူသည်လျှို့ဝှက်
အပ်သော အရာကို ဖော်ပြ တတ်၏၊ သစ္စာစောင့်
၁၄ သော သူမူကား၊ ဝှက်ထားတတ်၏၊– အကြံပေး
နိုင်သောညာဏ်မရှိလျှင်ပြည်သားတို့သည်ရှုံး
တတ်၏၊ အကြံပေး နိုင်သော သူ အများ ရှိလျှင်
မူကားမဘေးလွတ်တတ်၏၊
၁၅ အကျွမ်းမဝင်သောသူ၏အမှု၌ အာမခံသော
သူသည်အတွန်နာလိမ့်မည်၊ ထတ်တဝါးချင်းရိုက်
သောအမှုကိုရုန်းသော သူမူကား၊ စိုးရိမ်စရာမ
၁၆ ရှိ၊– နှစ်သက် ဖွယ် သော မိန်းမသည် ဂုဏ် အသ
ရေကိုငှင်၊ ခွန်အားကြီးသော ယောကျ်ားသည်
၁၇ စည်းစိမ်ကိုငင်ရတတ်၏၊– ထနားတတ်သောသူ
သည် မိမိ ကိုယ်၌ ကျေး ဇူး ပြုတတ် ၏၊ ကြမ်း
ကြုတ်သော သူမူကား၊ မိမိ ကိုယ်ကိုယ် နှောင့်
၁၈ ရှက်တတ်၏၊– မတရားသော သူ ပြု သော အမှု
သည်အမြဲမတည်တတ်၊ဖြောင့်မတ်ခြင်းအစေ့
မျိုးစေ့ကိုကြဲသောသူမူကား၊ မြဲမြံသောအကျိုး
၁၉ ကိုခံရလိမ့်မည်၊– ဖြောင့်မတ်ခြင်းတရားသည်
အသက် ရှင်ခြင်း၊နှင့် ဆိုင်သကဲ့သို့၊ ဒုစရိုက်ကို
လိုက် ရှာ သော သူ သည် ထည်း၊ မိမိ သေ ခြင်း၊
၂၀ ထိုင်အောင်လိုက်ရှာတတ်၏၊–သဘောကောက်
သောသူတို့ကို ထာဝရဘုရားသည် စက်ဆုပ်၍
ရှာတော်မူ၏၊ ဖြောင့်သောလမ်းသို့လိုက်သော
၂၁ သူတို့ကိုကား၊ နှစ်သက် တော် မူ၏၊– လူဆိုးတို့
သည် အသင်း ဖွဲ့သော်လည်း၊ အပြစ်ဒဏ်နှင့်
မလွတ်ရကြ၊ဖြောင့်မတ်သောသူတို့၏အမျိုးအ
၂၂ နွယ်မူကားလွတ်ရ၏၊ သမ္မာသတိမရှိ၊အဆင်း
လှသော မိန်းမသည် ဝက်မ နှာခေါင်း၌ ရွှေနား တပ်
၂၃ သော ရွှေတန်ဆာနှင့် တူ၏၊– ဖြောင့် မတ်သော
သူသည်မြတ်သောအရာကိုသာတောင့်တတတ်
၏၊မတရားသောသူမျှော်လင့်သောအရာမူကား၊
၂၄ ဒေါသအမျက် နှင့်ဆိုင်သတည်း၊– စွန့်ကြဲသော်
လည်း၊ ဥစ္စာ တိုး ပွား တတ် သော သူ ရှိ၏၊ အ
လောက်မတန် စုသိမ်း၍ ဆင်းရဲခြင်းသို့ ရောက်
၂၅ တတ်သောသူလည်းရှိ၏၊–စွန့်ကြဲတတ်သောသူ
သည်ကြွယ်ဝလိမ့်မည်၊သူတပါးကိုရေလောင်း
သောသူသည်ကိုယ်တိုင်ရေလောင်းခြင်းအကျိုး
၂၆ ကိုခံရလိမ့်မည်။–စပါးကိုသိုထားသောသူသည်
လူများ၊ ကျိန်ဆဲ ခြင်းကို ခံရလိမ့်မည်၊ ရောင်းချ
သောသူ၏ခေါင်း၌ မူကား၊ ကောင်းကြီးမင်္ဂလာ
၂၇ ရှိလိမ့်မည်၊– ကောင်းသောအရာကို ကြိုးစား၍
ရှာသော သူသည် ကျေးဇူးကိုခံရလိမ့်မည်၊ သူ
အကျိုးကို ဖျက်ခြင်းငှါ ရှာကြံသော သူမူကား၊
၂၈ ကိုယ် အကျိုး ပျက်ခြင်း၊ ရှိလိမ့်မည်၊– မိမိစည်း
စိမ် ကို ကိုး စား သော သူ သည် ရှုံး လိမ့် မည်၊
ဖြောင့်မတ်သောသူမူကား၊ သစ်ခက်ကဲ့သို့စိမ်း
၂၉ လန်းလိမ့်မည်၊–မိမိအိမ်ကိုနှောင့်ရှက်သောသူ
သည် လေကို အမွေ ခံရလိမ့်မည်၊ မိုက်သောသူ
သည်လည်း၊ လိမ္မာ သော သူထံ၌ ကျွန်ခံ ရလိမ့်
၃၀ မည်၊–ဖြောင့်မတ်သောသူသီးသောအသီးသည်
အသက် ပင် အသီး၊ ဖြစ် ၏၊ သူတပါး တို့၏ စိတ်
ဝိညာဉ်ကို ရသော သူ သည် လည်း၊ ပညာရှိ ဖြစ်
၃၁ ၏၊–ဖြောင့်မတ်သောသူသော်လည်းမြေကြီးပေါ်
မှာအပြစ်ဒဏ်ကိုခံရ၏၊ မတရားသော သူနှင့်
အပြစ် ထင်ရှားသော သူကို မူကား၊ အဘယ်ဆို
ဖွယ်ရာရှိသနည်း။

၁၂

၁ နည်းဥပဒေသကိုခံချင်သောသူသည်ပညာအ
တတ်ကိုနှစ်သက်၏၊ဆုံးမခြင်းကိုမုန်းသောသူမူ
၂ ကား၊တိရိစ္ဆာန်သဘောရှိ၏။-သူတော်ကောင်း
သည်ထာဝရဘုရား ရှေ့တော်၌ မျက်နှာရတတ်
၏၊ မကောင်းသော အကြံကို ကြံစည်သောသူမူ
၃ ကား၊အပြစ်စီရင်တော်မူခြင်းကိုခံရ၏။-လူသည်
ဒုစရိုက်အားဖြင့်မြဲမြံခြင်းသို့မရောက်ရ။ဖြောင့်
၄ မတ်သောသူ၏ အမြစ်မူကား မရွေ့ရ။- သီလရှိ
သောမိန်းမသည် မိမိလင်၌ဦးရစ်သရဖူဖြစ်၏၊ အ
ရှက် ခွဲတတ် သော မိန်းမမူကား၊ လင်၏ အရိုးတို့၌
၅ ဆွေးမြေ့ခြင်းကဲ့သို့ဖြစ်၏။- ဖြောင့်မတ်သောသူ
၏ အကြံသည် ဖြောင့်၏၊ မတရားသော သူပေး
၆ သောအကြံမူကား မုသာဖြစ်၏။- မတရားသော
သူ၏ စကား သည် သူ့ အသက် ကို သတ် ခြင်း ငှါ
စောင်း မြောင်းတတ်၏။ ဖြောင့် မတ် သော သူ၏
နှုတ်မူကား၊သူတပါးတို့ကိုကယ်နှုတ်တတ်၏။-
၇ မတရားသောသူ၏ အိမ်သည် ပြိုလဲပျောက်ပျက်
ခြင်း၊ ဖြောင့် မတ်သော သူ၏ အိမ် မူကား၊ အမြဲ
၈ တည်ခြင်း ရှိတတ်၏။- လူသည်ဉာဏ် ပညာရှိ
သည် အတိုင်း ချီးမွမ်း ခြင်း ကို ခံရ ၏။ သဘော
ကောက်သောသူမူကား၊မထီမဲ့မြင်ပြုခြင်းကိုခံရ
၉ ၏၊- စားစရာမရှိဘဲဝါကြွားသောသူထက်၊အသ
ရေမရှိ၊ ကိုယ် အလုပ်ကို လုပ်ရသော သူ သည်
၁၀ သာ၍ကောင်း၏။-ဖြောင့်မတ်သောသူသည်မိမိ
တိရိစ္ဆာန် အသက်ကို နှစ်မြောတတ်၏၊ မတရား
သောသူမူကား၊ ကရုဏာအရာ၌ပင်ကြမ်းကြုတ်
၁၁ တတ်၏။- မိမိ လယ်ယာ ကို လုပ်သော သူသည်
ဝစွာ စားရ၏။ အချည်းနှီးသော အမှု ကို စောင့်
၁၂ သောသူမူကား၊ဉာဏ်ချို့တဲ့၏။-မတရားသော
သူသည်လူဆိုးသုံးတတ်သောကျော့ကွင်းကို အ
လိုရှိ၏၊ ဖြောင့်မတ်သောသူ၏အမြစ်မူကား၊ အ
၁၃ သီးကို သီး တတ်၏။- စကား လွန်ကျူးရာတွင်
ဆိုးသော ကျော့ကွင်းရှိ၏။-ဖြောင့်မတ်သောသူ
၁၄ မူကား၊အမှုထဲကထွက်မြောက်တတ်၏။- လူသည်
မိမိ နှုတ်ခမ်း အသီးကို ဝစွာစားရ၏၊ မိမိလက်
လုပ်ရာအကျိုးအပြစ်ကိုလည်းခံရ၏။
၁၅ မိုက် သော သူ သည် မိမိ ပြု သော အမှု ကို မှန်
သည်ဟုထင်တတ်၏၊အကြံပေးသောစကားကို
၁၆ နား ထောင် သော သူ မူကား ပညာ ရှိ၏။- မိုက်
သော သူ၏ အမျက် ဒေါသ သည် ချက်ချင်း ထင်
ရှားတတ်၏။-ပညာသတိရှိသောသူမူကား၊ရှက်
၁၇ စရာ အမှု ကို ဖုံး တတ် ၏။- မှန် သော စကား ကို
ပြော သော သူသည် ဖြောင့် မတ်ခြင်း တရား၊ မ
မှန်သော သက်သေကို ခံသောသူမူကား၊ မုသာ
၁၈ တရားကိုပြသတတ်၏။-သန်လျက်နှင့်ထိုးသကဲ့
သို့စကားပြောတတ်သောလူ တချို့ရှိ၏၊ ပညာရှိ
တို့၏လျှာမူကား အနာကိုပင်ပျောက်စေတတ်၏။-
၁၉ သစ္စာနှုတ်ခမ်းသည်အစဉ်အမြဲတည်၏၊ မုသာ
၂၀ လျှာမူကား ခဏသာတည်၏။- မကောင်းသော
အကြံကို ကြံသောသူတို့၏ စိတ်ထဲမှာ လှည့်စား
တတ်သောသဘောရှိ၏၊ရန်ငြိမ်းစေခြင်းငှါအကြံ
ပေး သော သူတို့ ၌ ကား၊ ဝမ်း မြောက် စရာ အ
၂၁ ကြောင်း ရှိ ၏။- တရား သော သူ၌ အ မင်္ဂလာ မ
ရောက်ရ၊ မတရား သော သူမူကား၊ အမင်္ဂလာ
၂၂ နှင့် ပြည့်ဝ ရလိမ့်မည်။- မုသာ သုံးသော နှုတ်
ခမ်းသည် ထာဝရဘုရား စက်ဆုပ်ရွံရှာတော်မူ
ဖွယ်ဖြစ်၏၊ သစ္စာတရားကို စောင့်ရှောက်သော
သူတို့ မူကား၊ နှစ်သက်တော်မူဖွယ် ဖြစ်ကြ၏။-
၂၃ ပညာသတိရှိသောသူသည်မိမိသိသောအရာကို
ပင်ထိမ်ဝှက် တတ်၏၊ မိုက်သော သူမူကား၊ မိမိ
စိတ်အလိုအလျောက်မိုက်သောသဘောကိုထင်
၂၄ ရှားပြတတ်၏။- လုံ့လ ဝီရိယ ပြုသော သူသည်
အစိုး ရတတ် ၏၊ ပျင်းရိသော သူမူကား၊ အခွန်
၂၅ ပေးရ၏။- ဝမ်း နည်း ခြင်း အကြောင်း သည် ညှိုး
ငယ် စေတတ်၏၊ ကောင်းသော စကား မူကား၊
၂၆ ရွှင်လန်းစေတတ်၏။-ဖြောင့်မတ်သောသူသည်
အိမ်နီးချင်းကိုလမ်းပြတတ်၏၊မတရားသောသူ
လိုက် သော လမ်း မူကား၊ သူကို ပင် လှည့် စား
၂၇ တတ်၏။- ပျင်းရိသောသူသည် မုဆိုးလုပ်သော်
လည်း၊ ဖမ်းရသောအကောင်ကိုကင်၍ မစားရ။
လုံ့လ ဝီရိယ ပြုသော သူ၏ ဥစ္စာ မူကား၊ အဖိုး
၂၈ ထိုက်ပေ၏။- ဖြောင့် မတ်ခြင်း တရားလမ်း၌သေ
ထေးမရှိ။အသက်ချမ်းသာလမ်းဖြစ်၏။

၁၃

၁ ပညာရှိသောသားသည်အဘ၏ ဆုံးမခြင်း
ကိုနားထောင်တတ်၏၊ မထီမဲ့မြင်ပြုသောသားမူ
၂ ကား၊အပြစ်တင်ခြင်းကို နားမထောင်တတ်။-လူ
သည်မိမိနှုတ်၏ အသီးတည်း ဟူသောကောင်း
သောအရာကိုစားရ၏၊ ပြစ်မှားတတ်သောသူမူ
ကား၊ ညှဉ်းဆဲခြင်း အပြစ်၏ အသီး ကို စားရ
၃ ၏။- မိမိနှုတ်ကိုစောင့်သောသူသည်မိမိအသက်
ကိုစောင့်၏၊ မိမိနှုတ်ကိုကျယ်ကျယ်ဖွင့်သောသူ
၄ မူကား၊ ပျက်စီးခြင်းသို့ ရောက်တတ်၏။- ပျင်းရိ

သောထူအည်းအထယ်အရာကိုမျှ တောင့်တ၍မ
ရတတ်။လုံ့လ ဝီရိယ ပြုသောသူမူကား၊ မိမိအလို
၅ ဆန္ဒပြည့်စုံရ၏။-ဖြောင့်မတ်သောသူသည်မုသာ
စကားကိုမုန်းတတ်၏၊ မတရားသော သူမူကား၊
စိတ်ဆုပ် ငွယ်ဖြင့်၍၊ အရှက်ကွဲခြင်းသို့ရောက်
၆ တတ်၏။- ဖြောင့်မတ်ခြင်း တရားသည် လမ်း၊မ
လွှဲသောသူ ကိုစောင့် တတ်၏၊ ဒုစရိုက် တရားမူ
၇ ကား၊ အပြစ် ရှိသော သူကို လှည်းတတ်၏။- အ
လွန် ဆင်းရဲလျက်နှင့် ရတတ်ဟန် ဆောင် သော
သူရှိ၏၊ အလွန် ရ တတ် လျက် နှင့် ဆင်းရဲ ဟန်
၈ ဆောင်သော သူလည်း ရှိ၏။- စည်းစိမ်သည် ရ
တတ်သောသူ၏ အသက်ကို ရွေးဖိုး ဖြစ်၏၊ ဆင်း
ရဲသော သူမူကား၊ အပြစ်တင်သော စကားကို မ
၉ ကြားဘဲ နေ၏။- ဖြောင့်မတ်သော သူ၏ အလင်း
သည် ရွှင်လန်း၏၊ မတရားသော သူ၏ မီးခွက်မူ
၁၀ ကား၊သေရလိမ့်မည်။- မာနကြောင့်သာရန်တွေ့
ခြင်းဖြစ်၏၊သတိပေးသောစကားကိုနားခံသော
၁၁ သူမူကား ပညာရှိ၏။- လှုပ်ပေါ်ခြင်း အားဖြင့်
ဥစ္စာသည်လျော့တတ်၏၊ ကြိုးစားအားထုတ်၍၊
ဆည်းဖူးသော သူ၏ ဥစ္စာ မူကား၊ ပြန့်ပွား တတ်
၁၂ ၏။- မျှော်လင့်သောအရာသည်ဖင့်နွဲ့လျှင်၊စိတ်
နှလုံးကို ပူပန် စေတတ် ၏၊ အလို ပြည့်စုံသော
အခါမူကား၊အသက်ပင်ဖြစ်၏။
၁၃ နှုတ်ကပတ် တော်ကို မထီ မဲ့ မြင် ပြုသော သူ
သည် ဖျက်စီးလိမ့်မည်၊ ပညတ်တရား တော်ကို
ခန့်ညားသောသူမူကား၊ ချမ်းသာရလိမ့်မည်။-
၁၄ ပညာရှိသောသူ၏ တရားသည် အသေခံရာကျော့
ကွင်းတို့မှ၊လွှဲရှောင်ရာအသက်စမ်းရေတွင်းဖြစ်
၁၅ ၏။- ကောင်းသောဉာဏ်ရှိသောသူသည်မျက်
နှာရတတ်၏၊ ပြစ်မှားသောသူတို့လမ်းမူကား၊
၁၆ ခက်သောလမ်းဖြစ်၏။- သမ္မာသတိရှိ သောသူ
အပေါင်း တို့သည် ပညာ အတတ်နှင့် ပြုမူတတ်
ကြ ၏၊ မိုက်သော သူမူကား၊ မိမိမိုက်သော အ
၁၇ ပြစ်ကို ထင်ရှား စေတတ်၏။- မတရားသော အ
စေခံသည် မိမိစောင့်သော အမှုကို ဖျက် တတ်၏၊
သစ္စာ ရှိသော သံ တမန် မူကား၊ ကျန်းမာ ခြင်း
၁၈ အကြောင်း ဖြစ်၏။- သွန်သင်ခြင်းကို ငြင်းပယ်
သောသူသည်ဆင်းရဲခြင်းနှင့်ရှက်ကြောက်ခြင်း
သို့ ရောက် လိမ့်မည်၊ ဆုံးမ သော စကားကို နား
ထောင်သောသူမူကား၊ ဂုဏ်အသရေကိုရလိမ့်
၁၉ မည်။- အလိုဆန္ဒပြည့်စုံခြင်းအရာသည်စိတ်နှ
လုံးမွေ့လျော်
၏။ ဒုစရိုက်ကို ရှောင်သော အရာ မူကား၊ မိုက်

၂၀ သောသူတို့စိတ်ဆုပ်သောအရာဖြစ်၏။- ပညာရှိ
တို့နှင့်ပေါင်းဖော် သော သူ သည် ပညာရှိတတ်
၏၊ လူမိုက် တို့နှင့် ပေါင်းဖော်သော သူမူကား၊
၂၁ ဖျက်စီးတတ်၏။- အပြစ်ရှိသော သူတို့ကို ဘေး
လိုက် တတ်၏၊ ဖြောင့် မတ်သော သူတို့ မူကား၊
၂၂ ကောင်းသောအကျိုးကိုခံရလိမ့်မည်။- သူတော်
ကောင်းသည် သားမြေး တို့အဖို့ အမွေ ဥစ္စာကို
ချန်ထား တတ်၏၊ အပြစ်ရှိသော သူ၏ စည်းစိမ်
မူကား၊ ဖြောင့် မတ် သော သူ တို့ အဖို့ သို ထား
၂၃ လျက်ရှိ၏။- ဆင်းရဲ သား ထယ်ထိုးခြင်း အား
ဖြင့်စားစရာပွားများ၏၊သို့ရာတွင်၊မတရားသော
အမှုကြောင့် ပျက်စီး ခြင်းသို့ ရောက် တတ် ၏။-
၂၄ ကြိမ်လုံးကို မသုံးသောသူသည် မိမိသားကိုမုန်း
ရာသို့ရောက်၏၊သားကိုချစ်သောသူမူကား၊ငယ်
၂၅ သော အရွယ်မှ စ၍ ဆုံးမတတ်၏။- ဖြောင့်မတ်
သော သူသည် ဝစွာ စားရသော အခွင့် ရှိ၏၊ မ
တရား သော သူ မူကား၊ ငွတ် သိပ် ခြင်း ကို ခံရ
လိမ့်မည်။

၁၄

၁ ပညာ ရှိ သော မိန်း မ သည် မိမိ အိမ် ကို တည်
ဆောက် တတ်၏၊ မိုက်သော မိန်းမမူကား၊ ကိုယ်
၂ ထက် နှင့်ဖြို ဖျက်တတ်၏။-ဖြောင့်သောလမ်းသို့
လိုက်သောသူသည် ထာဝရဘုရားကို ကြောက်
ရွံ့တတ်၏၊ကောက်သောလမ်းသို့လိုက်သောသူ
၃ မူကား၊ မထီမဲ့မြင် ပြုတတ်၏။- မိုက်သောသူ၏
နှုတ်၌ မာန ကြိမ်လုံး ရှိ၏၊ ပညာ ရှိသော သူ၏
နှုတ် ခမ်း တို့ သည် ကယ် တင် သော အမှု ကို ပြု
၄ တတ်၏။- နွား၊ ထီးမရှိသောတင်းကုပ်သည်စင်
ကြယ်၏၊သို့သော်လည်း၊ နွားခွန်အားကိုသုံး၍
၅ များသော စီးပွားကို ရတတ်၏။- သစ္စာ ရှိသော
သက်သေသည် မုသာ မသုံးတတ်၊ သစ္စာဖျက်
၆ သောသက်သေမူကား၊ မုသာကိုသုံးတတ်၏။-မ
ထီမဲ့မြင် ပြုသော သူ သည် ပညာကိုရှာ၍ မတွေ့
ရ၊ ဉာဏ်ရှိသောသူမူကား၊ပညာအတတ်ကို
၇ ရလွယ်၏။-မိုက်သောသူနှင့်တွေ့၍ သူ၏နှုတ်၌
ပညာအတတ်မရှိသည်ကိုသိမြင်လျှင်၊ထိုသူကို
၈ ရှောင်သွား လော့။- ပညာ သတိ ရှိသော သူ၏
ပညာကား၊ ကိုယ်သွားရသောလမ်းကိုသိမြင်း
တည်း။ မိုက်သောသူ၏ မိုက်ခြင်း မူကား၊ ပရိ
၉ ယာယ်တည်း။- မိုက်သောသူတို့သည် ဒုစရိုက်
အပြစ်ကိုမထီလေးစား၊ပြုကြ၏။ဖြောင့်မတ်သော
သူတို့မူကား၊တယောက်ကိုတယောက် ချစ်ကြ

၁၀ ရွှင်ကြွခြင်း။ မိတ်နှလုံးသည် မိမိရလွှကို သိ၏။
မိတ်နှလုံးရွှင်ထန်းခြင်း အကြောင်းကိုလည်း
၁၁ သူတပါးမဆိုင်တတ်။- မတရားသောသူ၏အိမ်
သည်ပြိုသဲတတ်၏။ ဖြောင့်မတ်သောသူ၏ထဲ၌
၁၂ ထား၏ ပွင့်ထန်းတတ်၏။- လူထင်သည် အတိုင်း
ဖြောင့်သော်လည်း၊ အဆုံး၌ သေ
၁၃ ခြင်း၏ လမ်းတမျိုးရှိ၏။- လူသည်ရယ်
စဉ်အခါ ပင်၊ ဝမ်းနည်းသောမိတ်သဘောရှိ၏၊
ထိုရယ်မော ရွှင်ထန်းခြင်း၏ အဆုံး၌ လည်း ညှိုး
၁၄ ငယ်ခြင်း ရှိတတ်၏။- မိတ် နှစ်လုံး နောက်ပြန်
သောသူဖြစ်စေ၊ သူတော်ကောင်းဖြစ်စေ၊ မိမိအ
၁၅ ကျင့်တို့နှင့် ဝလိမ့်မည်။- ဉာဏ်တိမ်သောသူ
သည် သူတပါးပြောသမျှကို ယုံတတ်၏။ ပညာ
သတိ ရှိသော သူမူကား၊ မိမိသွားရာလမ်းကိုစေ့
၁၆ စေ့ကြည့်ရှု တတ်၏။- ပညာ ရှိသော သူ သည်
ကြောက်၍ဒုစရိုက်ကိုရှောင်တတ်၏။မိုက်သော
သူမူကား၊ မာနကြီး၍ရဲရင့်တတ်၏။
၁၇ မိတ်တိုသောသူသည်မိုက်စွာသောအမှုကိုပြု
တတ်၏။မကောင်းသောအကြံကိုကြံသောသူကို
၁၈ လည်း သူတပါး မုန်း လိမ့်မည်။- ဉာဏ် တိမ်
သောသူသည်မိုက်ခြင်းကိုအမွေခံတတ်၏။ပညာ
သတိ ရှိသော သူမူကား၊ သိပ္ပံ သရဖူကိုဆောင်း
၁၉ တတ်၏။-လူဆိုးတို့သည်သူတော်ကောင်းရှေ့၌
ဝပ်၊ မတရားသောသူတို့သည် ဖြောင့်မတ်သော
၂၀ သူ၏အိမ်တံခါးဝ၌ဝပ်၍ ဦးချတတ်ကြ၏။- ဆင်း
ရဲသောသူသည် မိမိအိမ်နီးချင်း မုန်းခြင်းကိုပင်
ခံရမည်။ ငွေရတတ်သောသူ၌ မူကား၊ များစွာ
၂၁ သောအဆွေခင်ပွန်းရှိလိမ့်မည်။-မိမိအိမ်နီးချင်း
ကိုမထီမဲ့မြင်ပြုသောသူသည် အပြစ်ရှိ၏။ ဆင်း
ရဲသောသူကို သနားသောသူမူကား၊ မင်္ဂလာရှိ
၂၂ ၏။- မကောင်းသောအကြံကို ကြံတတ်သောသူ
တို့သည် မှားယွင်းကြလိမ့်မည်။ ကျေးဇူးပြုမည်
ဟုကြံတတ်သောသူတို့မူကား၊ကရုဏာအကျိုး
၂၃ နှင့်သစ္စာအကျိုးကိုခံရကြလိမ့်မည်။-ကြိုးစား၍
လုပ်ဆောင်ရာ၌ ကျေးဇူးရှိ၏။ စကားများခြင်း
အကျိုးမူကား၊ ဆင်းရဲခြင်းသက်သက်တည်း။-
၂၄ ပညာရှိသောသူတို့၏ စည်းစိမ်ဥစ္စာသည် သူတို့
ဦးရစ်သရဖူဖြစ်၏။ မိုက်သောသူတို့၏မိုက်ခြင်း
၂၅ မူကား၊ အမိုက် သက်သက် ဖြစ်၏။- မှန် သော
သက်သေသည်သူ့အသက်ကိုကယ်တင်တတ်၏။
မမှန်သော သက်သေမူကား၊ မုသာကိုသုံးတတ်
၂၆ ၏။- ထာဝရ ဘုရားကို ကြောက် ရွံ့ခြင်း၌ သည်
အားကြီးသောကိုးစားရာအခွင့်ကို ဖြစ်စေတတ်
၏။သားတော်တို့သည်လည်း၊မှီခိုရာအရပ်ကို
၂၇ ရကြလိမ့်မည်။- ထာဝရဘုရားကို ကြောက်ရွံ့
သောသဘောသည် အသေခံရာကျော့ကွင်းထဲမှ
၂၈ လွှဲရှောင်ရာအသက်စမ်းရေတွင်းဖြစ်၏။- ပြည်
သားများပြားရာ၌ ရှင်ဘုရင်၏ဘုန်းတော်တည်
၏။ ပြည်သား နည်းပါးရာ၌ကား၊ မင်း အကျိုး
၂၉ နည်းခြင်းရှိ၏။- မိတ်ရှည်သောသူသည် ပညာ
ကြီး၏။မိတ်တိုသောသူမူကား၊အထူးသဖြင့်မိုက်
၃၀ ပေ၏။- ကျန်း မာသော နှစ်လုံး သည် ကိုယ် အ
သက်ရှင်စေသောအကြောင်း၊ငြူစူသောသဘော
မူကား၊ အရိုးဆွေးမြေ့ခြင်း အကြောင်းဖြစ်၏။-
၃၁ ဆင်းရဲသားတို့ကို ညှဉ်းဆဲသော သူသည် ဝန်
ဆင်းတော်မူသောဘုရားကိုကဲ့ရဲ့၏။ ဘုရားကိုရို
သေသော သူမူကား၊ ဆင်းရဲသော သူတို့ကိုသ
၃၂ နားတတ်၏။-မတရားသောသူသည်မတရားသော
ဖြင့် ပြုစဉ်အခါ၊ ဖျည်းခြင်းကို ခံရ၏။ ဖြောင့်
မတ်သော သူမူကား၊ သေသောအခါ၌ ပင်မျှော်
၃၃ လင့်စရာ ရှိ၏။- ဉာဏ် ရှိသောသူ၏ နှစ်လုံး၌
ပညာ ကိန်းဝပ်တတ်၏။ မိုက်သောသူတို့၏အ
ထဲ၌ ရှိသော အရာ မူကား၊ ထင်ရှားတတ်၏။-
၃၄ ဖြောင့်မတ်ခြင်းတရားသည်ပြည်သားတို့ကိုချီး
မြှောက်တတ်၏။ ဒုစရိုက် အပြစ် မူကား၊ ပြည်
၃၅ သား များတို့ကို ရှုတ်ချတတ်၏။- ပညာရှိသော
ကျွန်အား ရှင်ဘုရင်သည် ကျေးဇူး ပြုတတ်၏။
အရှက်ခွဲတတ်သော ကျွန်မူကား၊ အမျက်တော်
ကိုခံရမည်။

၁၅

၁ ပြည်း ညှင်း သော စကား သည် မိတ် ကို ငြိမ်း
တတ်၏။ ကြမ်းတမ်း သော စကား မူကား၊ အ
၂ မျက်ကို နှိုးဆော် တတ်၏။- ပညာ ရှိသော သူ၏
လျှာသည် ပညာအတတ်ကိုထင်တယ်စေတတ်
၏။ မိုက်သောသူတို့၏ နှုတ်မူကား၊ မိုက်သောအ
၃ ရာကိုသွန်းလောင်းတတ်၏။- ထာဝရ ဘုရား၏
မျက်စိတော်သည် ခပ်သိမ်းသောအရပ်၌ ရှိ၍၊
၄ ကောင်းမကောင်းကိုကြည့်ရှုတော်မူ၏။- ပြည်း
ညှင်းသောလျှာသည်အသက်ပင်ဖြစ်၏။ကြမ်းတမ်း
၅ သောလျှာမူကား၊စိတ်နာစေတတ်၏။-မိုက်သော
သူသည်အဖသွန်သင်ခြင်းကို မထီမဲ့မြင်ပြုတတ်
၏။ ဆုံးမ သော စကားကို နား ထောင် သောသူမူ
၆ ကား၊ သမ္မာသတိနှင့် ပြည့်စုံ တတ်၏။- ဖြောင့်
မတ်သောသူ၏အိမ်၌များစွာသောဥစ္စာရှိ၏။

မတရားသောသူခံရသောအမှုနှင့်ရှိ၏။ ပညာရှိ
၇ သောသူ၏နှုတ်ခမ်းသည် ပညာအတတ်ကိုဖြန့်ကြဲ
တတ်၏။ မိုက်သောသူ၏နှလုံးမူကား ပညာမ
၈ ရှိ။— မတရားသောသူ ပူဇော်သော ယဇ်ကိုထာ
ဝရဘုရား စက်ဆုပ်ရွံရှာတော်မူ၏။ သဘော
ဖြောင့်သောသူ ဆုတောင်းသော ပဌနာကိုကား
နှစ်သက်တော်မူ၏။— မတရားသော သူ လိုက်
သောလမ်းကို ထာဝရဘုရား စက်ဆုပ်ရွံရှာ
တော်မူ၏။ ဖြောင့်မတ်ခြင်းတရားလမ်းသို့လိုက်
၁၀ သောသူကိုကား ချစ်တော်မူ၏။— လမ်းလွဲသော
သူသည်ဆုံးမသောစကားကိုနားမခံလို။ သို့သော်
လည်း၊ အပြစ်တင်ခြင်းကို မုန်းသော သူသည်
၁၁ သေရမည်။— မရဏာနိုင်ငံနှင့် အဗဒ္ဒုန်နိုင်ငံ
သည်ထာဝရဘုရားရှေ့တော်၌ထင်ရှား၏။ ထိုမျှ
မက၊ လူသားတို့၏ နှလုံးသည်သာ၍ ထင်ရှား
၁၂ ၏။—မထီမဲ့မြင်ပြုသောသူသည်အပြစ်ပြသောသူ
ကိုမချစ်တတ်။ ပညာရှိထံသို့မချဉ်းကပ်တတ်။—
၁၃ ရွှင်လန်းသော စိတ်နှလုံးသည် ရွှင်သောမျက်
နှာကိုဖြစ်စေတတ်၏။ ညှိုးငယ်ခြင်း အားဖြင့်
၁၄ သော်မှု စိတ်ပျက်တတ်၏။— ဥာဏ်ကောင်းသော
သူ၏စိတ်နှလုံးသည်ပညာအတတ်ကိုရှာတတ်
၏။ မိုက်သောသူတို့၏ နှုတ်မူကား၊ မိုက်ခြင်းကို
၁၅ ကျွေးတတ်၏။— ဆင်းရဲငြိုငြင်သောသူ၏နေ့
ရက်ရှိသမျှတို့သည် ဆိုးယုတ်ကြ၏။ ရွှင်လန်း
သော စိတ်နှလုံးမူကား၊ အစဉ်အမြဲခံရသော
၁၆ ပွဲဖြစ်၏။—နှောင့်ရှက်ခြင်းနှင့်ရှုပ်ထွေးခြင်းရှိသော
စည်းစိမ်ထက်၊ ထာဝရဘုရားကို ကြောက်ရွံ့
ခြင်းနှင့်ယှဉ်သော ဥစ္စာအနည်းငယ်သည်သာ၍
၁၇ ကောင်း၏။— မုန်းဆောင်ကျွေးသော နွားသကောင်
လုံးကိုအချင်းချင်း အပြိုင်းထားသော မိတ်နှင့်စား
ရသည် ထက်၊ ချစ်ခြင်း မေတ္တာ ပါသော ဟင်း
၁၈ ရွက် တနပ်စာသည်သာ၍ကောင်း၏။— မာနကြီး
သော သူသည်ရန်ကို နိုးဆော်တတ်၏။ သည်းခံ
နိုင်သောသူမူကားငြိမ်းတတ်၏။
၁၉ ပျင်းရိသောသူသွားရာလမ်း၌ဆူးပင်ဆီးကာ
လျက်ရှိ၏။ ဖြောင့်မတ်သောသူ သွားရာလမ်းမူ
၂၀ ကား၊ မိုမောက်လျက်ရှိ၏။— ပညာရှိသောသား
သည် အဘစိတ်ချမ်းသာခြင်း အကြောင်းဖြစ်၏။
မိုက်သော သားမူကား၊ မိမိအမိကို မထီမဲ့မြင်ပြု
၂၁ တတ်၏။— ဥာဏ်မရှိသောသူသည်မိုက်ခြင်း၌
မွေ့လျော်တတ်၏။ ဥာဏ်ရှိသော သူမူကား၊
၂၂ ဖြောင့်မတ်သောအကျင့်ကိုကျင့်တတ်၏။— တိုင်
ပင်ခြင်း မရှိလျှင် အကြံပျက်တတ်၏။ တိုင်ပင်
သောသူများလျှင်မူကား၊ အကြံတည်တတ်၏။—
၂၃ လူသည် ပြန်ပြောသော စကား အားဖြင့် ဝမ်း
မြောက်စရာ အကြောင်းရှိ၏။ အချိန်တန်၍ပြော
သော စကားသည်လည်း အလွန် လျောက်ပတ်
၂၄ ပေ၏။— ပညာရှိသောသူ လိုက်ရာ အသက်လမ်း
သည် အောက်အရပ်၊ မရဏာနိုင်ငံမှ လွှဲရှောင်
၂၅ ၍၊ အထက်သို့ ပို့ဆောင်တတ်၏။— မာနထောင်
လွှားသောသူ၏ အိမ်ကို ထာဝရဘုရားဖျက်ဆီး
တော်မူမည်။ မုဆိုးမနေရာအရပ်ကိုကား၊ တည်
၂၆ စေတော်မူမည်။— မတရားသော သူ၏ အကြံအ
စည်တို့ကို ထာဝရဘုရား စက်ဆုပ်ရွံရှာတော်မူ
၏။ စင်ကြယ်သောသူ၏စကား တို့ကို ကား၊ နှစ်
၂၇ သက်တော်မူ၏။— မတရားသော မီးပွားကို ရှာ
သော သူသည် မိမိအိမ်သား တို့ကို နှောင့်ရှက်
တတ်၏။ တံစိုးကို ရွံသော သူမူကား၊ အသက်
၂၈ ရှင်းသာရလိမ့်မည်။—ဖြောင့်မတ်သောသူသည်
အထက်သို့ပြန်ပြောရမည်ကိုမိတ်နှလုံးထဲမှာ
ဆင်ခြင်တတ်၏။ မတရားသောသူ၏နှုတ်မူကား၊
မကောင်းသော အရာတို့ကို သွန်းလောင်းတတ်
၂၉ ၏။—ထာဝရဘုရားသည်မတရားသောသူတို့နှင့်
ဝေးတော်မူ၏။ ဖြောင့်မတ်သော သူ၏ ပဌနာ
၃၀ စကားကိုကားနားထောင်တော်မူ၏။—မျက်စိအ
လင်းသည် နှလုံးကို ရွှင်လန်းစေတတ်၏။
ကောင်းသောသိတင်းစကားသည်လည်း၊ အရိုး
၃၁ တို့ကို ခြင်ဆီနှင့်ပြည့်ဝစေတတ်၏။—အသက်နှင့်
ယှဉ်သော ဆုံးမခြင်း စကားကို နားထောင်သော
သူသည်ပညာရှိတို့နှင့် ပေါင်းဖော်ရသောအခွင့်
၃၂ ရှိ၏။— ဆုံးမခြင်းစကားကိုပယ်သောသူသည်မိမိ
အသက်ဝိညာဉ်ကိုမထီမဲ့မြင်ပြုရာသို့ရောက်၏။
နားထောင်သော သူမူကား၊ ဥာဏ်ကို ရတတ်
၃၃ ၏။— ထာဝရဘုရားကိုကြောက်ရွံ့သောသဘော
သည်ပညာကို သွန်သင်ခြင်းဖြစ်၏။ ဂုဏ်အသ
ရေအရင်၌နှိမ့်ချခြင်း၏နေရာရှိ၏။

၁၆

၁ စိတ်နှလုံးအကြံအစည် တို့သည်လူနှင့်ဆိုင်
ကြ၏။ လျှာနှင့် ပြန်ပြောချက်ကိုကား၊ ထာဝရ
၂ ဘုရား ပိုင်တော်မူ၏။— လူသည် မိမိ ကျင့်သမျှ
သော အကျင့်တို့ကို နှစ်သက် တတ်၏။ ထာဝရ
ဘုရားမူကား၊ စိတ်သဘောတို့ကိုချိန်တော်မူ၏။—
၃ ကိုယ်ပြုသော အမှုတို့ကို ထာဝရ ဘုရား၌ အပ်

သော့။ ထိုမြေလျှင် သင်၏ အကြံ အစည် တို့သည်
၄ တည်ကြည် လိမ့်မည်။- ထာဝရ ဘုရား သည် ခပ်
သိမ်းသောအရာတို့ကိုကိုယ်တော်အဘို့၊မတရား
သောသူတို့ကိုလည်း ဘေးဂါဠ် ခံရသော နေ့အ
၅ ဘို့ ဖန် ဆင်း တော် မူ ၏။- မာန ကြီး သော သူအ
ပေါင်းတို့ကိုထာဝရဘုရားစက်ဆုပ် ရွံရှာတော်
မူ၏။သူတို့သည်အသင်း ဖွဲ့သော်လည်း၊ အပြစ်
၆ ဒဏ် နှင့် မလွတ် ရ ကြ။- ကရုဏာ တရား နှင့်
သစ္စာတရားအားဖြင့်အပြစ်ပြေတတ်၏။ထာဝရ
ဘုရားကိုကြောက်ရွံ့သော သဘောအားဖြင့်ဒုစ
၇ ရိုက်ကိုရှောင်တတ်၏။- လူကျင့်သောအကျင့်တို့
ကိုထာဝရဘုရားသည် နှစ်သက်သောအခါ၊ ထို
သူ၏ရန်သူကိုပင်သူနှင့် သင့်တင့်စေတော်မူ၏။-
၈ ဖြောင့် မတ် ခြင်း ပါရ မိနှင့် ရည် သော ဥစ္စာ အ
နည်းငယ်သည် မတရားသဖြင့် ရသောဥစ္စာအ
၉ များထက်သာ၍ ကောင်း၏။- လူသည်မိမိသွား
ရာလမ်းကိုမိတ်ထဲမှာကြံစည်၏။သို့သော်လည်း၊
သူ၏ခြေရာတို့ကိုထာဝရဘုရားစီရင်တော်မူ၏။-
၁၀ ရှင်ဘုရင်၏ နှုတ်ခမ်းတို့၌ ဗျာဒိတ်တော်ရှိသည်
ဖြစ်၍၊တရားဆုံးဖြတ်ရာအမှု၌နှုတ်တော်သည်
၁၁ မမှားစေနှင့်။-မှန်သောအလေး နှင့်မှန်သောမှိန်
နှင်သည် ထာဝရဘုရား၏ ဥစ္စာဖြစ်၏။ အလေး
အိတ်၌ပါသမျှသောအလေးတို့သည်စီရင်တော်
၁၂ မူရာဖြစ်ကြ၏။-ရှင်ဘုရင်ပြုသောဒုစရိုက်သည်
စက်ဆုပ် ရွံရှာဘွယ်ဖြစ်၏။ အကြောင်း မူကား၊
ရာဇပလ္လင်သည် ဖြောင့်မတ်ခြင်းအားဖြင့်သာ
၁၃ တည်တတ်၏။- ဖြောင့် မတ် သော နှုတ် ခမ်း တို့
သည် ရှင် ဘုရင် နှစ်သက်ရာ ဖြစ်၏။ မှန်ကန် စွာ
၁၄ ပြော သော သူ ကို ရှင် ဘုရင် ချစ် တတ် ၏။- ရှင်
ဘုရင်၏ အမျက်သည် သေမင်း တမန်ကဲ့သို့ ဖြစ်
၏။ သို့သော်လည်း၊ ပညာ ရှိသော သူ သည် အ
၁၅ မျက်တော်ကိုဖြေတတ်၏။- ရှင်ဘုရင်မျက်နှာပွင့်
လန်းသောအားဖြင့်အသက်ချမ်းသာရ၏။ကျေး
ဇူး တော်သည် နောက်ရွာသော မိုဃ်း တိမ် ကဲ့
သို့ဖြစ်၏။

၁၆ ရွှေကိုရတတ်ခြင်းထက် ပညာကိုရတတ်ခြင်း
သည် အလွန် ကောင်း၏။ ငွေကို အမြတ် မထား၊
ဉာဏ် နှင့် ပြည့်စုံ ခြင်းကို အမြတ် ထားစရာအ
၁၇ လွန်ကောင်း၏။-ဖြောင့်မတ်သောသူလိုက်သော
လမ်းမူကား၊ ဒုစရိုက်ကို ရှောင်ခြင်းတည်း။ ထို
လမ်း၌ မလွှဲဘဲ အမြဲလိုက်သောသူသည် မိမိအ
၁၈ သက်ဝိညာဉ်ကိုစောင့်တတ်၏။-မာနသည်ပျက်
စီးခြင်းအရင်၊ ထောင်လွှားသော သဘောသည်
၁၉ မှတ်ချုခြင်းအရင်၌ နေရာကျတတ်၏။- စိတ်နှိမ့်
ချသောသူတို့ နှင့် ပေါင်းဖော်၍၊ စိတ်နှိမ့်ချခြင်း
သည်မာနကြီးသော သူတို့နှင့်ဆက်ဆံ၍၊ လုယူ
သောဥစ္စာကိုဝေမျှခြင်းထက်သာ၍ကောင်း၏။-
၂၀ ပညာနှင့် အမှုစောင့်သောသူသည် အကျိုးကိုရ
လိမ့်မည်။ ထာဝရဘုရားကိုခိုလှုံသောသူသည်
မင်္ဂလာရှိ၏။- လိမ္မာသော စိတ်သဘောရှိ
သောသူသည်ပညာသတိရှိသည်ဟု ကျော်စော
၂၁ ရာသို့ ရောက် တတ် ၏။ ချိုသော စကားကို ပြော
တတ် သော နှုတ် သဏ္ဌာန် သည် လည်း ပညာ အ
၂၂ တတ်ကိုတိုးပွားစေတတ်၏။-ဉာဏ်ပညာကိုရ
သောသူသည်အသက်စမ်းရေတွင်းကိုရ၏။မိုက်
သောသူတို့၏သွန်သင်ခြင်းမူကား၊မိုက်ခြင်းဖြစ်
၂၃ ၏။-ပညာရှိသောသူ၏နှစ်လုံးသည်သူ၏နှုတ်ကို
သွန်သင်၍၊ သူ၏ နှုတ်ခမ်း တို့၌ ပညာ အတတ်
၂၄ ကို ထပ်လောင်းတတ်၏။- သာယာသောစကား
တို့သည် ပျားလပို့ကဲ့သို့ဖြစ်၍၊စိတ်ဝိညာဉ်၌ ချို
မြိန်လျက်၊ကိုယ်အရိုးကိုကျန်းမာစေလျက်ရှိကြ
၂၅ ၏။-လူထင်သည်အတိုင်း မှန်သောလမ်းရှိ
သော်လည်း၊ အဆုံး၌ သေခြင်းသို့ပို့သောလမ်း
၂၆ တမျိုးရှိ၏။-အလုပ်လုပ်သောသူသည် မိမိပစ်
တောင်းသောကြောင့်၊ မိမိ အဘို့ လုပ်တတ်၏။-
၂၇ အဓမ္မလူသည် မကောင်းသောအမှုကို ကြိုးစား
၍ကြံစည်တတ်၏။သူ၏နှုတ်ခမ်း၌လောင်သော
၂၈ မီးကဲ့သို့ ရှိ၏။- သဘော ကောက်သော သူသည်
ရန်မျိုးစေ့ကိုကြဲတတ်၏။ကုန်းတိုက်သောသူသည်
၂၉ လည်း၊မိတ်ဆွေတို့ကိုကွဲပြားစေတတ်၏။-ကြမ်း
ကြုတ်သောသူသည် အိမ်နီးချင်းကိုချော့မော့၍၊
မကောင်းသော လမ်း ထဲသို့ သွေးဆောင် တတ်
၃၀ ၏။-ကောက်သောအကြံကိုကြံစည်ခြင်းငှါမျက်
စိမှိတ်၍၊ နှုတ်ခမ်းတို့ကိုလှုပ်သဖြင့်၊ ဆိုးညစ်
၃၁ သော အမှုကို ပြီးစီး တတ် ၏။- ဖြူ သော ဆံပင်
သည်ဖြောင့်မတ်ခြင်း တရားလမ်း၌ တည်လျှင်၊
၃၂ ဘုန်း ကြီး သော သရဖူ ဖြစ်၏။- စိတ် ရှည်သော
သူသည် ခွန်အားကြီးသောသူထက်၊မိမိစိတ်
ကိုချုပ်တည်းသောသူသည် မြို့ကိုတိုက်ယူသော
၃၃ သူထက် သာ၍ကောင်း၏။- စာရေးတံတို့ကို
အိတ်ထဲ၌ သောင်းလျက် ရှိရာတွင်၊ ခွဲဝေ စီရင်
ခြင်းအမှုကိုထာဝရဘုရားပိုင်တော်မူ၏။

၁၇

၁ တအိမ်လုံးပြည့်သော ယဇ်ပူဇော်ပွဲကို ရန်



 

ရွှင်သော မိတ်နှင့် စားရသည်ထက်၊ ပြိမ်သက်
ခြင်းနှင့်ရှည်သော မုန့်တလုပ် စားသည် သာ၍
၂ ကောင်း၏။— ပညာရှိသော ကျွန်သည် အရှက်ခွဲ
သောသားကို အုပ်စိုး၍ ညီအစ်ကိုတို့နှင့် အတူ
၃ အမွေခံတတ်၏။— ငွေစစ်စရာအိုး မီးဖိုကိုင်၊ ရွှေ
စစ်စရာအိုး မီးဖိုကိုင် သုံးတတ်၏၊ မိတ်နှစ်လုံး
၄ ကိုကား၊ ထာဝရဘုရားစစ်တော်မူ၏။— မတရား
သဖြင့်ပြုသောသူသည် မုသာစကားကိုယုံတတ်
၏၊ မုသာသုံးသောသူသည်လည်း ဆိုးညစ်သော
၅ စကားကို နားထောင်တတ်၏။— ဆင်းရဲသားထို
ကို မထီမဲ့မြင်ပြုသောသူသည် ဖန်ဆင်းတော်
မူသောဘုရားကိုကဲ့ရဲ့၏၊ သူတပါး၌ဘေးရောက်
လျှင် ဝမ်းမြောက်တတ်သောသူသည်လည်း အ
၆ ပြစ်ဒဏ်နှင့်မလွတ်ရ။— မြေးတို့သည်အသက်
ကြီးသောသူ၏ သရဖူ ဖြစ်၏၊ သားတို့၏ ဘုန်း
၇ ကား အဘတည်း။— မြင့်သောစကားသည် မိုက်
သော သူနှင့် မတော်မသင့်၊ ထိုမှုမက၊ မုသာ
၈ စကားသည် မင်းနှင့် မတော်မသင့်။— ထက်
ဆောင်သည် ခံသောသူအထင်အတိုင်းကျောက်
မြတ်ကဲ့သို့ဖြစ်၍၊ မျက်နှာပြုလေရာရာ၌အောင်
၉ တတ်၏။— သူတပါးပြစ်မှားသော အမှုကို ဖုံး
ထားသောသူသည်မေတ္တာကိုပြုစု၏၊ ကြားပြော
သောသူမူကား၊ မိတ်ဆွေတို့ကို ကွဲပြားစေ၏။—
၁၀ မိုက်သောသူသည်ဒဏ်ချက်တရာကိုအမှုထား
သည်ထက်၊ ပညာရှိသော သူသည် ဆုံးမသော
၁၁ စကားကိုသာ၍ အမှုထားတတ်၏။— ပုန်ကန်
သောသူသည်မတရားသောအမှုကိုသာပြုစုတတ်
၏၊ ထိုကြောင့်ကြမ်းကြုတ်သောတမန်ကို သူ့ထံ
၁၂ သို့စေလွှတ်ရ၏။— မိုက်သောစိတ်ထဲ၌ရှိသော
သူ မိုက်နှင့် မတွေ့ပါစေနှင့်၊ သားငယ်ပျောက်
၁၃ သောဝံမနှင့်သာ၍တွေ့ပါစေသော။— အကြင်သူ
သည်ကျေးဇူးကိုမသိ၊ မကောင်းသော အမှုနှင့်
ဆပ်၏၊ ထိုသူ၏အိမ်သည်မကောင်းသောအမှု
၁၄ နှင့် မကင်း မလွတ်ရ။— ရန်တွေ့စအမှု သည်ရေ
ကန်ပေါင် ပေါက်စကဲ့သို့ ဖြစ်သောကြောင့်၊ ရန်
၁၅ တွေ့မှီ တွေ့စရာအကြောင်းကိုရှောင်လော့။— မ
တရားသောသူတို့ကိုအပြစ်မှလွှတ်သောသူနှင့်၊
ဖြောင့်မတ်သော သူတို့ကို အပြစ်စီရင်သော
သူနှစ်ယောက်လုံးတို့ကိုထာဝရဘုရားစက်ဆုပ်
ရွံရှာတော်မူ၏။
၁၆ မိုက်သော သူသည် ပညာကို အလိုမရှိသည်
ဖြစ်၍၊ ပညာအဘိုးကိုအဘယ်ကြောင့်သူ၌အစ်
၁၇ ရသနည်း။— အစဉ်ချစ်ခင်ပွန်းသည့် အခါခပ်သိမ်း
ချစ်တတ်၏၊ ညီအစ်ကိုသည် ဒုက္ခကာလအဖို့
၁၈ မွေး ဖွား လျက် ရှိ၏။— ဉာဏ်မဲ့သော သူသည်
ထက်ဝါးချင်းရိုက်၍၊ အဆွေခင်ပွန်းရှေ့မှာအာ
၁၉ မခံတတ်၏။— ရန်တွေ့ခြင်းကို နှစ်သက်သော သူ
သည်လွန်ကျူးခြင်းကိုလည်းနှစ်သက်တတ်၏၊
မိမိတံခါးကို ချီးမြှင့်သော သူသည် ဖျက်ဆီးခြင်း
၂၀ ကိုရှာတတ်၏။— သဘောကောက်သောသူသည်
ကောင်းသောအကျိုးကိုမတွေ့တတ်၊ စကားထိ
သောသူသည် ဘေးဥပါဒ်နှင့်တွေ့ကြုံတတ်၏။—
၂၁ မိုက်သောသူကိုမြင်ဖွားစေသောသူသည်မိမိ
မိမိဝမ်းနည်းစေတတ်၏၊ မိုက်သောသူ၏ အဘ၌
၂၂ ဝမ်းမြောက်စရာအကြောင်းမရှိ။— စိတ်ရွှင်လန်း
ခြင်းသည်ကျန်းမာစေတတ်၏၊ စိတ်ပျက်ခြင်းမူ
၂၃ ကား၊ အရိုးထိုကို သွေ့ခြောက်စေ တတ်၏။— မ
တရားသောသူသည် တရားထမ်းကိုဖျက်သော
အဘိုးတံမိုးကို သူတပါး၏ ခါးပိုက် ထဲက ထုတ်
၂၄ ယူတတ်၏။— ဉာဏ်ရှိသောသူသည်ပညာ
ကိုမျက်မှောက်ပြုတတ်၏၊ မိုက်သောသူ၏မျက်စိ
မူကား၊ မြေကြီးစွန်းတိုင်အောင် အာရုံပြု၍ကြည့်
၂၅ ရှုတတ်၏။— မိုက်သော သူသည် အဘ ဝမ်းနည်း
စရာအကြောင်း၊ မွေးသော အမိစိတ်ညစ်စရာအ
၂၆ ကြောင်းဖြစ်၏။— ဖြောင့်မတ်သော သူကို အပြစ်
ဒဏ်မပေးကောင်း၊ တရားသဖြင့် စီရင်သော
၂၇ မင်းကိုလည်း မထိမိုက်ကောင်း။— သိပ္ပံအထောက်
နှင့် ပြည့်စုံသော သူသည် စကား မများတတ်၊
ဉာဏ်ကောင်းသောသူ သည်လည်း၊ ငြိမ်သော
၂၈ စိတ်ရှိတတ်၏။—မိုက်သောသူပင်တိတ်ဆိတ်စွာ
နေလျှင်ပညာရှိဟူ၍၎င်း၊ မိမိနှုတ်ကိုမဖွင့်ဘဲနေ
သောသူတို့လည်း၊ ဉာဏ်ကောင်းသော သူဟူ
၍၎င်းသူတပါးထင်တတ်၏။

၁၈

၁ သူတပါးမှာ နှင့်မရောနှောသောသူသည်မိမိ
စေတနာအလိုရှိသည်အတိုင်းရှာဖွေ၍၊ ပညာရှိ
တနှာအရိုးရိုးကို စူးစမ်းမေးမြန်းတတ်၏။—
၂ မိုက်သောသူမူကား၊ မိမိစိတ်သဘောကိုပြစရာ
အခွင့်မှတပါး၊ အခြားသောအကြောင်းကြောင့်
၃ ဉာဏ်ပညာ၌မပျော်မွေ့တတ်။—မတရားသော
သူလာသော အခါ၊ မထီမဲ့မြင်ပြုခြင်းကိုခံရ၏၊
ဂုဏ် အသရေ ပျက် သော အခါ၊ ကဲ့ရဲ့ခြင်းကို
၄ လည်းခံရ၏။— နှုတ်ထွက်သောစကားသည်နက်
သောရေကဲ့သို့ဖြစ်၊ ပညာစမ်းရေထွက်သည် စီး

၅ မဲသောမြစ်ကဲ့သို့ရှိင်ဖြစ်၏။- တရားတွေ့ရာတမှ
န့်ဖြောင့်မတ်သောသူကိုရှုံးစေခြင်းငှါ၊ မတရား
၆ သောသူ၏မျက်နှာကိုမထောက်ကောင်း။- မိုက်
သောသူ၏ နှုတ်ခမ်းတို့သည် ရန်တွေ့ တတ်၏၊
ထူ၏ နှုတ်သည်လည်း အပြစ်ဒါဏ်ကို တောင်း
၇ တတ်၏။- မိုက်သောသူ၏ နှုတ်သည်ပျက်စီးရာ
အကြောင်း၊ နှုတ်ခမ်းတို့သည်ထောင်းမိမိအသက်
၈ ထိုကျော့မိရာအကြောင်းဖြစ်၏။- ဝိုးတိုက်သော
သူ၏စကားသည်မြိန်သောခဲဖွယ်စားဖွယ်ကဲ့သို့
၉ ဖြစ်၍၊ ဝမ်းအတွင်း သို့ ဝင်တတ်၏။- အလုပ်
လုပ်သောအခါ၊ ပျင်းရိသောသူသည် မိမိ ဥစ္စာ
ကို အရှုံးနှီး ကုန်စေသော သူနှင့် ညီ အစ်ကို
၁၀ တော်ပေ၏။- ထာဝရဘုရား၏ နာမ တော်သည်
ခိုင်ခံ့သောရဲတိုက်ဖြစ်၍၊ဖြောင့်မတ်သောသူတို့
၁၁ သည်ပြေးဝင်သဖြင့်၊လုံချုံစွာနေရကြ၏။- ငွေ
ရတတ်သောသူက၊ စည်းစိမ်သည်ခိုင်ခံ့သော
မြို့ဖြစ်၏၊ မြင့်သော မြို့ရိုး နှင့် တူသည်ဟု ထင်
၁၂ တတ်၏။- ပျက်စီးခြင်းအရင်၌လူသည်စိတ်မြင့်
ဖြစ်၏ နေရာ၊ ဂုဏ်အသရေအရင်၌နှိမ့်ချခြင်း
၁၃ ၏နေရာရှိ၏။- အကျိုးအကြောင်းကိုမစစ်မှီ၊ အ
မှုစီရင်သောသူသည်မိုက်သောအပြစ်၊ အရှက်
ကွဲရသောအပြစ်ရှိ၏။
၁၄ လူ၏စိတ်ဝိညာဉ်သည် မိမိနာခြင်းဝေဒနာကို
ခံနိုင်၏၊ ကြေကွဲသောစိတ်ကိုကား၊ အဘယ်သူ
၁၅ သည်းခံနိုင်သနည်း။- သမ္မာသတိ ရှိသောသူ၏
စိတ်နှလုံးသည်ပညာအတတ်ကိုသိထားတတ်
၏၊ ပညာရှိသောသူ၏ နားသည်ထည်း၊ ဝညာ
၁၆ စကားကိုရှာတတ်၏။-လူ၌ပါသောလက်ဆောင်
အားဖြင့်၊ လမ်းရှင်းထင်း၍၊ လူကြီးထံသို့ဝင်ရ
၁၇ သောအခွင့်ရှိတတ်၏။-ကိုယ်အမှုကိုအဦးစောင့်
၍ ပြောသောသူသည် ဖြောင့်မတ်ရာသို့ ရောက်
သော်လည်း၊ အိမ်နီးချင်း လာ၍ စစ်ကြောတတ်
၁၈ ၏။-စာရေးတံပြုခြင်းအားဖြင့် အငြင်းအခုံငြိမ်း
၍၊ အားကြီးသောသူတို့အမှုကို ဆုံးဖြတ်တတ်
၁၉ ၏။- အပြုံးထားသောညီအစ်ကိုသည်ခိုင်ခံ့သော
မြို့ထက် သာ၍ ခက်၏၊ ညီ အစ်ကို ရန် တွေ့ခြင်း
၂၀ အမှုသည် ရဲတိုက်တံခါးကျင်ကဲ့သို့ဖြစ်၏။- လူ
သည် မိမိနှုတ် ၏ အသီးနှင့် ဝမ်းပြည့် ရ၏၊ မိမိ
၂၁ နှုတ်ခမ်းတို့၏ စီးပွားနှင့်ဝရ၏။- လျှာသည်အ
သက် သေခြင်း နှင့် ရှင်ခြင်းကို အစိုးရ၏၊ လျှာ
ကိုနှစ်သက်သောသူသည်လည်း၊ လျှာ၏အသီး
၂၂ ကိုစားရ၏။- မယားကိုရသောသူသည် ကောင်း
သော အရာကို ရ၍၊ ထာဝရ ဘုရား၏ ကျေးဇူး
၂၃ တော်ကိုခံရ၏။- ဆင်းရဲသောသူသည် တောင်း
ပန်တတ်၏၊ ငွေရတတ်သောသူမူကား၊ ကြမ်း
၂၄ ထမ်းစွာ ပြန်ပြော တတ် ၏။- အပေါင်းအဖော်
များသောသူသည် အကျိုးနည်းရှိတတ်၏၊ မိတ်
ဆွေမူကား၊ ညီအစ်ကို ့ထက်သည် ထက်သာ၍
နှဲကပ်တတ်၏။

## ၁၉

၁ ကောက်လိမ်သောစကားကိုသုံးတတ်သောလူ
မိုက်ထက်၊ ဖြောင့်မတ်ခြင်းလမ်း၌လိုက်သော
၂ ဆင်းရဲသူသည်သာ၍ကောင်း၏။- စိတ်ဝိညာဉ်
သည် ပညာအတတ်မရှိဘဲမနေကောင်း၊ အလျှင်
အမြန်သွားသောသူသည်ထည်းမှားယွင်းတတ်
၃ ၏။- လူသည်မိုက်သောသဘောကြောင့်၊ လမ်း
လွဲ၍ စိတ်ထဲမှာ ထာဝရဘုရားကိုကဲ့ရဲ့ ပြစ်တင်
၄ တတ်၏။- စည်းစိမ် ရှိလျှင် အဆွေ ခင်ပွန်းများ
တတ်၏၊ ဆင်းရဲသောသူမူကား၊ မိမိအိမ်နီးချင်း
၅ နှင့်မျှ မပေါင်းဖော် ရ။- မမှန် သော သက်သေ
သည်အပြစ်မခံဘဲမနေရ၊ မုသာကိုသုံးသော လူ
၆ သည်လည်း ဒါဏ် နှင့် မလွတ်ရ။- များသော လူ
တို့ သည် မင်း ကို ချော့မော့ တတ်ကြ ၏၊ လက်
ဆောင် ပေးသောသူကိုလည်း၊ လူတိုင်းမိတ်ဆွေ
၇ ဖွဲ့တတ်၏။-ဆင်းရဲသောသူ၏ညီအစ်ကိုမှီသမျှ
တို့သည် သူကို ရန်းတတ်ကြ၏၊ သူ၏အဆွေခင်
ပွန်းတို့သည်သူကိုသာ၍ဝေးစွာရှောင်တတ်ကြ
၏၊လိုက်၍ခေါ်သော်လည်းကွယ်ပျောက်ကြပြီ။-
၈ ပညာကို ရသော လူသည် မိမိ အသက် ဝိညာဉ်
ကိုချစ်ရာ ရောက်၏၊ ဉာဏ်ကို နှုတ်မြဲသောသူ
၉ သည်လည်း၊ ကောင်းကျိုးကို ခံတတ်၏။- မမှန်
သောသက်သေသည်အပြစ်မခံဘဲမနေရ၊ မုသာ
ကို သုံးသော သူသည် လည်း၊ ပျက်စီး ခြင်း သို့
၁၀ ရောက်လိမ့်မည်။- မိုက်သောသူသည်မထျော်မွေ့
ထင့်၊ ထိုမျှမက၊ ကျွန်သည် မင်းတို့ကို အစိုးမရ
၁၁ သင့်။- သမ္မာသတိ ရှိသော လူသည် မိမိအမျက်
ဒေါသကို ချုပ်တည်းတတ်၏၊ သူတပါးပြစ်မှား
ခြင်းကိုသည်းခံသောသူသည်လည်း ဘုန်းအသ
၁၂ ရေရှိ၏။-ရှင်ဘုရင်၏အမျက်တော်သည်ချင်္သေ့
ဟောက်သကဲ့သို့ဖြစ်၏၊ ကျေးဇူးတော် မူကား
မြက်ပင်ပေါ်မှာ ကျသောနှင်းရည်ကဲ့သို့ ဖြစ်၏။-
၁၃ မိုက် သော သား သည် အဖ ဆင်း ရဲ စရာ အ
ကြောင်းဖြစ်၏၊ ရန်တွေ့တတ်သောမယားသည်
ထည်း၊ အစဉ်စက်ကျသောမိုးယိုပေါက်နှင့်တူ

၁၄ ၏။- အိမ်နှင့်စည်းစိမ်သည်မိဘအမွေဥစ္စာဖြစ်
၏။ သတိ ရှိသော မယားမူကား၊ ထာဝရ
ဘုရားပေးသနားတော်မူရာဖြစ်၏။
၁၅ ပျင်းရိသော သဘောသည် အိပ်ပျော်စွာအိပ်
ပျော်စေ၍၊ ပျင်းရိသောသူသည် အငတ်ခံရ၏။-
၁၆ ပညတ်တရားကို စောင့်သောသူသည် မိမိအ
သက်ဝိညာဉ်ကို စောင့်ရာရောက်၏။မိမိသွားရာ
လမ်းတို့ကို မထိမ်းမသိမ်းသောသူမူကား၊ အ
၁၇ သေခံရ၏။-ဆင်းရဲသားကိုသနားသောသူသည်
ထာဝရဘုရားအား ချေးငှါးသောသူ ဖြစ်၍၊ သူ
ပြုသောအမှု၏အကျိုးကို ဆပ်ပေးတော်မူလိမ့်
မည်။- မျှော်လင့်စရာရှိစဉ်အခါ၊ ကိုယ်သားကို
ဆုံးမ လော့။ သူကို အကျိုးနည်း စေခြင်းငှါ
၁၈ သနားမိတ်မရှိစေနှင့်။- ဒေါသအမျက်ကြီးသော
သူသည် အပြစ်ဒဏ်ကို ခံရ လိမ့် မည်။ သူကို
ကယ် နှုတ်လျှင် အဖန် ဖန် ကယ် နှုတ် ရမည်။-
၁၉ နောက်ဆုံးကာလ၌ ပညာရှိဖြစ်လိုသော်၊ ဆုံးမ
သောစကားကိုနားထောင်၍ နည်းဥပဒေသကိုခံ
၂၀ ယူလော့။- လူသည် အထူးထူး အပြားပြား ကြံ
စည်တတ်၏။သို့ရာတွင်၊ ထာဝရဘုရား၏အကြံ
၂၁ တော်သည်တည်လိမ့်မည်။-လူသည်စေတနာရှိ
လျှင် ကျေးဇူး ပြုရာရောက်၏။ ဆင်း ရဲသောသူ
သည် ထည့်၊ မုသာ သုံးသော သူထက် သာ၍
၂၂ ကောင်း၏။- ထာဝရဘုရားကိုကြောက်ရွံ့သော
သဘော သည် အသက် ရှင်ခြင်းနှင့် ဆိုင်သည်
ဖြစ်၍၊ ထိုသဘော ရှိသော သူသည် အလို ဆန္ဒ
ပြည့်စုံလျက်ရှိ၍၊ ဘေးဥပါဒ်နှင့် ကင်း လွတ်
၂၃ လိမ့်မည်။- ပျင်းရိသောသူသည်မိမိလက်ကိုအိုး
၌သွင်းသော်လည်း၊ တဖန်နှုတ်၍မိမိပါးစပ်သို့မခွံ့
၂၄ ထို။- မထိမဲ့မြင်ပြုသောသူကိုရိုက်လျှင်၊ ဉာဏ်
ထိန်သော သူသည် သတိ ရလိမ့်မည်။ ဉာဏ်
ကောင်း သော သူကို ဆုံးမလျှင်၊ သူ သည် ပညာ
၂၅ တရားကိုနားလည်လိမ့်မည်။-အဘဥစ္စာကိုဖြုန်း
၍ အမိကို နှင် ထုတ်သော သား သည် အရှက်ခွဲ
သော သား၊ ကဲ့ရဲ့ ခြင်းကို ခံစေ သော သား ဖြစ်
၂၆ ၏။- သား၊ပညာတရားကိုပယ်စေခြင်းငှါ၊သွန်
၂၇ သင်သောသူ၏ စကားကိုနားမထောင်နှင့်။- အ
၂၈ ဓမ္မသက်သေသည် တရားကို မထိမဲ့မြင်ပြုတတ်
၏။မတရားသောသူသည်ထည်း၊ဒုစရိုက်ကိုစား
၂၉ ၍ ရှိတတ်၏။- မထိမဲ့မြင်ပြုသောသူတို့အဖို့ အ
ပြစ် စီရင် ခြင်း၊ မိုက် သော သူတို့ ၏ ကြော အဖို့
ဒဏ်ပေးခြင်းသည်အသင့်ရှိ၏။

၂၀

၁ စပျစ်ရည်သည် ဗျာယ်ဗျာသ ထတ်၏။ သေရည်
သေရက်သည် ရန်ရင်းခတ် ပြုခြင်းအမှုကိုပြု
စေတတ်၏။ထိုသို့သောအားဖြင့်မှားယွင်းသော
၂ သူသည်ပညာမရှိ။-ရှင်ဘုရင်ကြောက်စေသော
အမှုအရာသည် ခြင်္သေ့ဟောက်ခြင်းနှင့်တူ၏။
အမျက်တော်ကို နှိုးဆော်သော သူ သည် မိမိအ
၃ သက်ကို ပြစ်မှား၏။- ရန်တွေ့ခြင်းကို ငြိမ်းစေ
သော သူသည် ဂုဏ်အသရေရှိ၏။ မိုက်သောသူ
၄ မူကား၊ အမှုနှင့်ရောနှော တတ်၏။- ချမ်းသော
ကြောင့်ပျင်းရိသောသူသည်ထယ်မထိုးဝံ့။ ထို
ကြောင့် စပါး ရိတ် သော ကာလ၌ သူ တပါး ကို
၅ တောင်း သော်လည်း မရရာ။- လူမိတ်နှစ်ထဲ၌
ပညာ အကြံ သည် နက် သော ရေ နှင့် တူ သော်
လည်း၊ ဉာဏ် ကောင်းသော သူသည် ခပ်မှု
၆ လိမ့်မည်။- လူများထို့သည်မိမိတို့ပြုသောကျေး
ဇူးကို ကြားပြောတတ်၏။ သစ္စာ ရှိသော သူကို
၇ ကား၊ အဘယ်သူရှာ၍တွေ့နိုင်သနည်း။-ဖြောင့်
မတ်သော သူသည် မိမိဖြောင့်မတ်ခြင်း လမ်းသို့
လိုက်၍၊ သူ၏သားစည် မြေးဆက်တို့သည် မင်္ဂ
၈ လာရှိကြ၏။- တရားပလ္လင်ပေါ်မှာထိုင်သောရှင်
ဘုရင်သည် မကောင်းသော အမှုအရာရှိသမျှတို့
၉ ကိုမျက်စိတော်နှင့် ပယ်ရှင်းတတ်၏။- ငါသည်
ကိုယ်စိတ်နှစ်လုံးကို စင်ကြယ်စေပြီ။ အပြစ်နှင့်
၁၀ ကင်းလွတ်၏ဟုအဘယ်သူဆိုနိုင်သနည်း။- အ
လေး ချင်း မတူသော အလေး၊ အဝင် ချင်း မတူ
သော တင်း တောင်း တို့ကို ထာဝရ ဘုရား စက်
၁၁ ဆုပ် ရွံရှာတော်မူ၏။-သူငယ်သော်လည်း၊မိမိပြု
သောအမှုသည်စင်သည်မစင်သည်၊ မှန်သည်မ
မှန်သည်ကိုမိမိအခြင်းအရာအားဖြင့်ပြ၍၊ မိမိသ
၁၂ ဘောကိုထင်ရှားစေ၏။-ကြားတတ်သောနားကို
၎င်း၊မြင်တတ်သောမျက်စိကို၎င်း၊ထာဝရဘုရား
ဖန်ဆင်းတော်မူပြီ။- ဆင်းရဲမည်ဟု မိုးရိမ်စရာ
ရှိသည် ဖြစ်၍၊ အိပ်ခြင်းကို မတပ်မက်နှင့်။ နိုး
တတ်လျှင် ဝစွာ စားရ၏။- ဝယ်သော သူကား၊ မ
ကောင်းဘူး၊ မကောင်းဘူးဟု ဆိုတတ်၏။ ဝယ်
၁၃ ၍ သွားပြီးမှ ဝါကြွားတတ်၏။- ရွှေနှင့်ပတ္တမြား
လည်းရှိ၏။ ပညာအတတ်နှင့် ပြည့်စုံသော နှုတ်
မူကား၊ အဖွန့် အဆိုး ထိုက်သော ရတနာ ဖြစ်
၁၄ ၏။- မကျွမ်းသောသူ အတွက်၊ အာမခံသောသူ၏
မိမိအထွက်၊ အာမခံတတ်သောသူသည်အဝတ်
အစ ရှိသော ဥစ္စာတစုံတခုကိုပေါင်ထားစေ။

၁၇ လှည့်စား၍ ရသော အစာသည် ချိုမြိန်သော်
လည်း၊စားသောသူ၏ နှုတ်သည် ကျောက်စရစ်
၁၈ နှင့်ပြည့်လိမ့်မည်။– အကြံရှိသော သူသည်သူ
တပါးနှင့် တိုင်ပင်လျှင်၊ အကြံ ထမြောက်တတ်
၏။ကောင်းသောတိုင်ပင်ခြင်း၌မှသာစစ်မှုကိုပြု
၁၉ ရမည်။– ထည့်၍စကား များသောသူသည် လျှို့
ဝှက်အပ်သော အရာကို ဖော်ပြတတ်၏။ သို့ဖြစ်
၍၊ချော့မော့တတ်သောသူနှင့်မပေါင်းဖော်နှင့်။–
၂၀ အကြင် သူသည် မိဘကို ကျိန်ဆဲ၏၊ ထိုသူ၏မီး
ခွက်သည် ထူထပ်သော မှောင်မိုက်၌ သေလိမ့်
၂၁ မည်။– အမွေဥစ္စာကို အစအဦး၌ အလျင်ရနိုင်
သော်လည်း၊အဆုံး၌အမင်္ဂလာဖြစ်လိမ့်မည်။–
၂၂ ငါသည်ရန်တုံ့ပြုမည်ဟုမဆိုနှင့်၊ထာဝရဘုရား
ကိုငံ့လင့်လော့။သို့ပြုလျှင်ကယ်တင်တော်မူလိမ့်
၂၃ မည်။– အလေးချင်းမတူသောအလေးတို့ကိုထာ
ဝရ ဘုရား စက်ဆုပ် ရွံရှာ တော် မူ၏။ စည်း လဲ
၂၄ သော မှိန် ခွင် ထည်း အပြစ် ရှိ ၏။– လူသွားရာ
လမ်းတို့ကိုထာဝရဘုရားစီရင်တော်မူ၏။သို့ဖြစ်
၍၊ သူသည် မိမိသွားရာ လမ်းတို့ကို အဘယ်သို့
၂၅ နားလည်နိုင်သနည်း။–ဘုရားအမှု၌စကားလွန်
မိသောသူ၊ သစ္စာဂတိထားပြီးမှ မေးမြန်းသော
၂၆ သူသည်ကျော့ကွင်းနှင့်တွေ့မိပြီ။– ပညာရှိသော
ရှင်ဘုရင်သည်လူဆိုးတို့ကိုကွဲပြားစေ၍၊ဘီးနှင့်
၂၇ မိတတ်၏။–လူ၏ဝိညာဉ်သည်ကိုယ်အတွင်း
၌ရှိရှိသမျှတို့ကို စစ်ဆေးသော ထာဝရ ဘုရား၏
၂၈ မီး ခွက်ဖြစ်၏။–ကရုဏာတရားနှင့်သစ္စာတရား
သည်ရှင်ဘုရင်ကို စောင့်မတတ်၏။ ရာဇပလ္လင်
တော်သည် ကရုဏာတရားအားဖြင့် မြဲမြံတတ်
၂၉ ၏။– လူပျို၏ ဘုန်း ကား အစွမ်း သတ္တိ၊ လူ အို၏
၃၀ ဂုဏ်အသရေကားဖြူသောဆံပင်ဖြစ်၏။– အနာ
ကို မွှေနှောက်ခြင်း အားဖြင့် အဆိုး အညစ် နှင့်
ကင်းစင်တတ်၏။ ဒဏ်ချက်ရာတို့ သည်လည်း၊
ကိုယ် အတွင်း အရပ်တို့ ၌ ထိုသို့သော ကျေးဇူး
ကိုပြုတတ်၏။

၂၁

၁ ရှင်ဘုရင်၏စိတ်နှလုံးသည်ရေချောင်းကဲ့သို့
ဖြစ်၍၊ ထာဝရဘုရား၏လက်တော်၌ ရှိသဖြင့်၊
အလိုတော်ရှိသည် အတိုင်းလှည့်စေတော်မူ၏။–
၂ လူတို့သည် မိမိတို့ကျင့် သမျှသော အကျင့်တို့ကို
နှစ်သက် တတ်၏။ ထာဝရ ဘုရား မူကား၊ စိတ်
၃ နှလုံးတို့ကို ချိန်တော်မူ၏။– ယဇ်ပူဇော် ခြင်း
ကို နှစ်သက်သည်ထက် ဖြောင့်မတ်စွာ ပြုခြင်း၊
တရားသဖြင့် စီရင်ခြင်းကို ထာဝရဘုရားသည်
၄ သာ၍ နှစ်သက်တော် မူ၏။– ထောင်လွှား သော
မျက်နှာ၊ မာနကြီးသော နှလုံး၊ မတရားသော
၅ သူတို့၏အလင်းသော်လည်းအပြစ်ပါ၏။–လုံ့လ
ဝီရိယပြုသောသူ၏အကြံအစည်သည် ကြွယ်ဝ
ခြင်းနှင့်ဆိုင်၏၊ သမ္မာသတိမရှိသောသူ၏အကြံအ
၆ စည်သည်ဆင်းရဲခြင်းနှင့်ဆိုင်ပေ၏။–မုသာ
စကား အားဖြင့် ဘဏ္ဍာကို ဆည်းဖူးခြင်း အမှု
သည် သေမင်း ကျော့ကွင်းတို့တွင် ပျောက်လွင့်
၇ သောအနတ္တဖြစ်၏။– မတရားသော သူတို့သည်
တရားသဖြင့်မစီရင်လိုသောကြောင့်၊ မိမိညှဉ်းပန်း
ဆဲခြင်းအပြစ်သည်မိမိကို ဖျက်ဆီးလိမ့်မည်။–
၈ လမ်း ဖွဲ့ သွား သော သူ သည် ကွာ ဝေး ရာ သို့
ရောက်တတ်၏။ စင်ကြယ်သောသူပြုသောအမှု
၉ မူကား မှန်ပေ၏။– ရန်တွေ့တတ်သော မိန်းမနှင့်အ
တူလူများသော အိမ်၌ နေသည် ထက်၊ အိမ်မိုး
၁၀ ပေါ်၊ထောင့်ထဲမှာနေသော်သာ၍ကောင်း၏။–မ
တရားသောသူသည်မနာလိုသောစိတ်ရှိ၏။အိမ်
၁၁ နီးချင်း၌ကျေးဇူးပြုချင်သောအလိုမရှိ။– မထီမဲ့
မြင် ပြုသော သူသည် အပြစ်ဒဏ် ကို ခံရသော
အခါ၊ ဉာဏ်တိမ်သောသူသည် သတိ ရတတ်
၏။ သတိ ရသော သူသည်လည်း ဆုံးမသွန်သင်ခြင်း
၁၂ ကိုခံသောအခါ၊ပညာတိုးပွားတတ်၏။– တရား
သောသူသည်မတရားသောသူ၏ အိမ်ကိုပညာ
စိတ်နှင့် ဆင်ခြင်တတ်၏။ မတရားသောသူတို့မူ
ကား၊ မိမိတို့ ပြု သောဒုစရိုက် အားဖြင့် ပျက်စီး
၁၃ ခြင်း သို့ရောက်တတ်ကြ၏။– ဆင်းရဲ သောသူ၏
အော်ဟစ်သံကိုမကြား လို၍၊ နားကိုပိတ်သော
သူသည်ကိုယ်တိုင်အော်ဟစ်၍၊ အဘယ်သူမျှမ
၁၄ ကြားရ။– တိတ်ဆိတ်စွာပေးသောလက်ဆောင်
သည်သူ့စိတ်ကိုငြိမ်း၊ရင်ခွင်၌ ဝှက်ထားသော လက်
ဆောင်ပဏ္ဏာသည် ပြင်းစွာသော အမျက်ကိုငြိမ်း
၁၅ စေတတ်၏။–ဖြောင့်မတ်သောသူသည်တရားသ
ဖြင့် စီရင်၍၊ဝမ်းမြောက်တတ်၏။အဓမ္မအမှုကို
ပြုသောသူ မူကား၊ ပျက်စီးခြင်းသို့ ရောက်လိမ့်
၁၆ မည်။– ဉာဏ် ပညာ လမ်းမှ ဖွဲ့ သွား သောသူ
သည် သင်း ချိုင်း သား အစု အဝေး၌ နေရာကျ
လိမ့်မည်။
၁၇ ကာမဂုဏ်၌ မွေ့လျော်သောသူသည် ဆင်းရဲ
ခြင်းသို့ ရောက် လိမ့်မည်။ စပျစ် ရည် နှင့် ဆီကို
၁၈ ကြိုက်သောသူသည်လည်းငွေကိုမရတတ်ရ။–မ
တရားသော သူသည် တရားသော သူ့အဖို့၊ သွန်

ချွဲနှောင်ရန်တွေ့ခြင်းကိုပြုသောမိန်းမနှင့်
၁၉ ရှိခြင်းထက်- မိတ်ဆိုး၍ရန်တွေ့တတ်သောမိန္မနှင့်
နေသည်ထက်၊ တောထွင်ပြင်၌ နေသော် သာ၍
၂၀ ကောင်း၏။- ပညာရှိသောသူ၏ အိမ်၌ နှစ်သက်
ဖွယ်သောဘဏ္ဍာနှင့်ဆီရှိတတ်၏၊ မိုက်သောသူ
၂၁ မူကား ဆုံးစေတတ်၏။- ဖြောင့်မတ်ခြင်းတရား
နှင့်ကရုဏာတရားကို ရှာသောသူသည် အသက်
ရှင်ခြင်း၊ဖြောင့်မတ်ခြင်း၊ဂုဏ်အသရေတင့်ရှား
၂၂ ခြင်းတိုင်တွေ့တတ်၏။- ပညာရှိသောသူသည်ခိုင်
ခံ့သောမြို့ရိုးကိုတတ်၍၊ မြို့သားကိုးစားရာခွန်
၂၃ အားကို ရှုတ်ချတတ်၏။- မိမိ နှုတ်နှင့် လျှာကို
စောင့်သောသူသည် မိမိစိတ်ဝိညာဉ်ကိုဒုက္ခနှင့်
၂၄ ကွယ် စေခြင်းငှါ စောင့်ရှောက်၏။- ပြင်းစွာ
သော ဒေါသ အမျက်၌ ကျင်လည်သော သူကို
ထောင်လွှား စော်ကား သော သူ၊ မထီမဲ့မြင်ပြု
၂၅ သောသူဟူ၍ သမုတ်အပ်၏။- ပျင်းရိသောသူ
သည် အလုပ်မလုပ်ချင်သောကြောင့်၊ မိမိတပ်
၂၆ မက်သောအားဖြင့်သေတတ်၏။-တနေ့လုံးတပ်
မက် အားကြီး တတ်၏၊ ဖြောင့်မတ်သော သူမူ
၂၇ ကား၊ မနှမြော ဘဲ ခွန့်ကြဲ တတ်၏။- မတရား
သောသူ ပူဇော်သောယဇ်သည် စက်ဆုပ်ရွံရှာ
ဖွယ် ဖြစ်၏၊ ထိုမှုမက၊ မတရားသောစိတ်နှင့်ပူ
၂၈ ဇော်လျှင်သာ၍ ဖြစ်၏။- မမှန်သော သက်သေ
သည် ပျက်တတ်၏၊ ကိုယ်တိုင် ကြားသော သူမူ
၂၉ ကား၊ တည်ကြည်စွာ ပြောတတ်၏။- မတရား
သောသူသည် မိမိမျက်နှာကို ခိုင်မာစေတတ်၏၊
ဖြောင့်မတ်သောသူမူကား၊ မိမိသွားရာလမ်းကို
၃၀ ပြုပြင်တတ်၏။- ထာဝရဘုရား တဘက်၌
ဉာဏ်မတည်၊ပညာမတည်၊အကြံတစုံတခုမျှ
၃၁ မတည်နိုင်။- စစ်တိုက်ရာကာလအဘို့ မြင်းများ
ကိုပြင်ဆင်သော်လည်း၊ ထာဝရဘုရား၏ ကျေး
ဇူးတော်ကြောင့်ချမ်းသာရပါ၏။

၂၂

၁ ကောင်းသော အသရေကို များစွာသောဥစ္စာ
ထက်သာ၍ရွေးစရာကောင်း၏၊သူတပါးနှစ်သက်
ခြင်း ကျေးဇူးသည် ရွှေငွေထက်သာ၍ ကောင်း
၂ ၏။- ငွေရတတ်သောသူနှင့် ဆင်းရဲသော သူတို့
သည် တွေ့ကြုံကြ၏၊ ထိုသူအပေါင်းတို့ကို ထာ
၃ ဝရဘုရား ဖန်ဆင်းတော်မူ၏။- သမ္မာ သတိရှိ
သောသူသည် အမှုကိုမျှော်မြင်၍ ပုန်းနေတတ်
၏၊ဉာဏ်တိမ်သောသူမူကား၊ အစည်အတိုင်း
၄ သွား၍ အမှုနှင့် တွေ့တတ်၏။- စိတ်နှိမ့်ချခြင်း၊
ထာဝရ ဘုရား ကို ကြောက် ရွံ့ ခြင်း ကျေး ဇူး
ကြောင့် စည်းစိမ်၊ ဂုဏ် အသရေ၊ အသက်ကိုရ
၅ တတ်၏။-သဘောကောက်သောသူသွားရာလမ်း
၌၊ဆူးပင်များနှင့်ကျော့ကွင်းများရှိတတ်၏၊ မိမိ
စိတ် ဝိညာဉ်ကို စောင့် ရှောက် သော သူ မူကား၊
၆ ဝေးစွာ ရှောင်သွားလိမ့်မည်။- သူငယ် သွားရာ
လမ်း၌ဆုံးမသွန် သင်လော့၊ထိုသူ လျှောင်သူအို
အိုသော အခါ ထိုလမ်းမှ မလွှဲ၊ လိုက်သွား လိမ့်
၇ မည်။- ငွေရတတ်သောသူသည်ဆင်းရဲသောသူ
ကိုအစိုးရ၏၊ ချေးငှါးယူသောသူသည် ချေးငှါး
၈ ပေးသောသူ၌ကျွန်ဖြစ်၏။-ဒုစရိုက်မျိုးစေ့ကိုကြဲ
သောသူသည် ဒုက္ခစပါးကို ရိတ်ရမည်၊ ဒေါသ
စိတ် ရှိ၍ ဝါးတီ ပေး နိုင်သော တန် ခိုး ဆုံး
၉ ရှောက် လိမ့်မည်။- ကရုဏာ မျက်စိ ရှိသောသူ
သည်ဆင်းရဲသောသူတို့ကို ကျွေးသောကြောင့်
၁၀ မင်္ဂလာရှိလိမ့်မည်။- မထီမဲ့မြင်ပြုသောသူကိုနှင်
ထုတ်လော့၊သို့ပြုလျှင်ရန်မာန်ထည်းထွက်သွား
လိမ့်မည်၊ရန်တွေ့ခြင်းနှင့်ကဲ့ရဲ့ခြင်းလည်းငြိမ်း
၁၁ လိမ့်မည်။- စိတ်နှလုံးဖြူစင်ခြင်းကို နှစ်သက်
သောသူသည် လျောက်ပတ်သောစကားကိုပြော
တတ်၍၊ ရှင်ဘုရင်နှင့်မိတ်ဆွေ ဖွဲ့ရလိမ့်မည်။-
၁၂ ထာဝရ ဘုရား၏ မျက်စိ တော် သည် ပညာအ
တတ်ကို စောင့်၏၊ ပြစ်မှားသောသူ၏ စကားကို
၁၃ ကားချေတော်မူ၏။- ပျင်းရိသောသူက၊ အိမ်ပြင်
မှာခြင်္သေ့ရှိ၏၊လမ်းသို့ထွက်လျှင်၊ ငါသေလိမ့်
၁၄ မည်ဟုဆိုတတ်၏။- အမျိုးပျက်သောမိန္မ၏နှုတ်
သည်နက်သော မြေတွင်းဖြစ်၏၊ ထာဝရဘုရား
စက်ဆုပ် ရွံရှာတော်မူသောသူသည်ထိုမြေတွင်း
၁၅ ထဲသို့ကျလိမ့်မည်။-မိုက်သောသဘောသည်သူ
ငယ်၏ စိတ်နှလုံးထဲမှာ ထုပ်ထားလျက် ရှိ ၏၊
ဆုံးမသော်လည်း၊ ဆုံးမသောကြိမ်လုံးသည် ထိုအ
၁၆ သောကိုဝေးစွာနှင်တတ်၏။- ကိုယ်စီးပွားအဘို့
ဆင်းရဲသား တို့ကို ညှဉ်းဆဲသော သူနှင့်၊ ငွေရ
တတ်သောသူတို့အားပေးသောသူသည် ဆင်းရဲ
ခြင်းသို့အမှန်ရောက်လိမ့်မည်။
၁၇ သင်၏ နားကိုညွတ်၍ ပညာရှိ စကား ကို နား
ထောင်လော့၊ငါ့ပညာအတတ်ကိုလည်းစိတ်နှစ်
၁၈ လုံး၌စွဲသမ်းလော့။- သင်၏နှစ်လုံး၌ထွင်းမိနိုင်
လျှင်သာယာသော အကျိုး ရှိလိမ့်မည်၊ သင်၏
၁၉ နှုတ်၌လည်း အစည်အသင့်ရှိလိမ့်မည်။- သင်
သည်ထာဝရဘုရား၌ခိုလှုံမည်အကြောင်း၊သင့်
၂၀ ကိုယ်တိုင်ကို ယနေ့ ငါသွန်သင် ၏။- သင်သည်

၂၀ အမှန်တရား၏စကားစစ်ကိုသိမည်အကြောင်း၊ နှင့်၊
သင့်ထံသို့စေလွှတ်သောသူတို့အား၊ အမှန်စကား
ကို ပြန်၍ပြော နိုင်မည် အကြောင်း၊ အတတ် ပေး
ချွတ်၊ ပညာ အတတ်ကို ပြသလျက်၊ ထူးဆန်း
သော အရာ တို့ကို ငါရေး၍ ပေး လိုက် သည် မ
၂၁ ဟုတ် လော။– ဆင်း ရဲ သော သူ ၏ ဆင်း ရဲ ကို
ထောက်၍၊ သူ၏ ဥစ္စာကို မလု မယူနှင့်၊ ရုံး၌ ထ
၂၂ ထက္ကူတ၏ကို မှုတ်ခါး၊ ဝ၌ မညှဉ်းဆဲနှင့်။– အ
ကြောင်းမူကား၊ ထာဝရဘုရားသည်သူတို့အမှု
ကို စောင့်တော်မူမည်၊ သူတို့ဥစ္စာကိုလုယူသော
၂၃ သူတို့၏အသက်ကို လုယူတော်မူမည်။– စိတ်ထို
က်သော သူကို မိတ်ဆွေ မဖွဲ့နှင့်၊ အမျက် ပြင်း ထန်
၂၄ သောသူနှင့် အတူမလိုက်နှင့်။– လိုက်လျှင်သူ၏
ထုံးစံဓလေ့တို့ကိုသင်၍၊ ကိုယ်အသက်ကျော့မိ
၂၅ ရာဖြစ်လိမ့်မည်။– လက်ဝါးရိုက်သောသူ၊
နှင့်၊ သူကြွေးကို အာမခံသော သူ စုထဲသို့ မဝင်
၂၆ နှင့်။– သင်၌ပေးရန်မရှိလျှင်၊သင့်အိပ်ရာကိုအ
၂၇ ဘယ်ကြောင့်သူယူသွားစေချင်သနည်း။–ဘိုးဘေး
မိတ်ဆွေ သော မြေ မှတ်တိုင် တို့ကို မရွှေ့ နှင့်။–
၂၈ အောင် မြင် စွာ အမှုကို ကြိုး စား၍ ပြီး မြီး စေ
တတ်သောသူရှိသလော၊ ထိုသူသည်သာမညလူ
၏ အမှုကို မဆောင်ရွက်၊ ရှင်ဘုရင်၏ အမှုတော်
ကိုဆောင်ရွက်ရ၏။

## ၂၃

၁ မင်းနှင့်အတူထိုင်၍ စားသောက်သောအခါ၊
သင့်ရှေ့မှာအဘယ်သူ ရှိသည်ကို စေ့စေ့ဆင်ခြင်
၂ လော့။– သင်သည်စားကျူးတတ်သောသူ ဖြစ်
လျှင်၊ သင် ၏ လည် ချောင်း ကို ဓား နှင့် ရှယ်
၃ လော့။–ထိုမင်း၏ ခွဲယ်စား ခွဲယ်တို့ကိုအလိုမရှိ
၄ နှင့်၊ လှည့်စား တတ်သော အစာ ဖြစ်၏။– ငွေရ
တတ်ခြင်းငှါမကြိုးစားနှင့်၊ ကိုယ်ညာဏ်ကိုအ
၅ မှီ မပြုနှင့်။– ပျောက် တတ်သော အရာကို စေ့စေ့
ရှုတ်မျှော် ပြုသင့်သလော၊ အကယ် စင်စစ်အ
ထင်းတသည် မိုးယံ၌ ကောင်း ကင်သို့ ပျံတတ်သ
ကဲ့သို့၊ ထိုအရာသည် အတောင် တို့ကို လုပ်၍ ပျံ
၆ သွားတတ်၏။– မနာလိုသောသူ၏အစာကိုမစား
၇ နှင့်၊ သူ၏ခွဲယ်စားခွဲယ်ကို အလိုမရှိနှင့်။– သူ
သည်စိတ်ထင်သည်အတိုင်းဖြစ်၏၊ စားသောက်
၈ လော့ဟုဆိုသော်လည်း၊စေတနာစိတ်မရှိ။– သင်
သည်စားသောအစာကို တဖန် အန်ရလိမ့်မည်၊
သင် ချိုသော စကားသည်း ယိုယွင်းလိမ့်မည်။–
၉ မိုက် သော သူ ကြား အောင် စကား မပြော နှင့်၊
သင်၏ စကား၌ ပါသော ပညာကို မထီမဲ့မြင် ပြု
၁၀ လိမ့်မည်။– အရင်မိတ်သော မြေမှတ်တိုင်ကို မ
ရွှေ့နှင့်၊ မိဘမရှိသော သူတို့၏ လယ်ကို မသိမ်း
၁၁ နှင့်။– အကြောင်းမူကား၊ ထိုသူတို့ကိုရွေးတော်
မူသောသူသည် တန်ခိုးကြီး၍၊ သင့်တဘက်၌သူ
၁၂ တို့အမှုကိုစောင့်တော်မူလိမ့်မည်။– ဆုံးမခြင်း ဩဝါဒ
၌စိတ်နှလုံးစွဲထမ်း၍၊ ပညာအတတ်စကားကို
၁၃ နားခံလော့။– သူငယ်ကိုမဆုံးမဘဲမနေနှင့်၊ ကြိမ်
၁၄ လုံးနှင့် ရိုက်သော်လည်း သူသည်မသေ။– ကြိမ်
လုံးနှင့် ရိုက်၍ သူ၏အသက် ဝိညာဉ်ကို မရဏာ
နိုင်ငံမှ ကယ်နှုတ်ရမည်။
၁၅ ငါ့သား၊ သင့်နှလုံး၌ ပညာ ရှိလျှင် ငါ့နှလုံး
နှင့် ငါကိုယ်တိုင်သည် ဝမ်း မြောက် လိမ့်မည်။–
၁၆ သင့်နှုတ်သည်မှန်သော စကားကိုပြောသောအ
၁၇ ခါ၊ ငါ့ကျောက်ကပ် ရွှင်လန်း လိမ့်မည်။– အပြစ်
ထင်ရှားသောသူတို့ကိုငြူစူသောစိတ်မရှိစေနှင့်၊
တနေ့လုံးထာဝရဘုရားကို ကြောက်ရွံ့သောသ
၁၈ ဘော ရှိစေလော့။– အကယ်စင်စစ်အမှုဆုံးဖြတ်
ခြင်းရှိ၍ သင်မျှော် လင့်ခြင်း ပျက် ချည်း မဖြစ်ရ။
၁၉ အကြောင်းမပျက်ရ။– ငါ့သား၊ စကားကိုနား
ထောင်၍ ပညာ ရှိသဖြင့်၊ ကိုယ် စိတ် နှလုံး ကို
၂၀ ထမ်းမ၌ဲ့ပွင်လော့။– စပျစ်ရည်သောက်ကျူး
သောသူ၊ အမဲသား စား ကျူး သော သူတို့ကို အ
၂၁ ပေါင်းအဖော်မလုပ်နှင့်။– သောက်ကျူးသော
သူနှင့် စားကျူးသော သူသည် ဆင်းရဲ ခြင်းသို့
ရောက်လိမ့်မည်၊အိပ်ကျူးသောသဘောသည်
၂၂ လူကို အဝတ်စုတ်နှင့် ဖုံးတတ်၏။– သင့်ကိုဖြစ်
ဖွားစေသောအဖ၏ စကားကို နားထောင်လော့၊
အသက် ကြီးသော အမိကို မထီမဲ့မြင် မပြုနှင့်။–
၂၃ သစ္စာတရားကိုဝယ်လော့၊ မရောင်းနှင့်၊ပညာ
ကိုငှင်၊ ဆုံးမခြင်းဩဝါဒကိုငှင်၊ ညာဏ်သတ္တိကိုငှင်
၂၄ ထိုအတူပြုလော့။– ဖြောင့်မတ်သော သူ၏ အဖ
သည် အလွန် ဝမ်း မြောက် လိမ့်မည်။ ပညာ ရှိ
သောသားကို ဖြစ် ဖွားစေသောသူသည်ထိုသား
၂၅ ၌အားရဝမ်းမြောက်လိမ့်မည်။– သင်၏မိဘတို့
သည် ဝမ်းမြောက်၍၊ သင့်ကိုဖွားဖွားသောသူ
၂၆ သည် ရွှင်လန်းလိမ့်မည်။– ငါ့သား၊ သင့်နှလုံး
ကို ငါ့အား ပေးလော့၊ သင့် မျက်စိ တို့သည် ငါ
၂၇ သွားသောလမ်းကိုကြည့်ရှုတတ်ပါစေ။–ပြည်တန်
ဆာမသည်နက်သောကျင်း၊ကဲ့သို့ငှင်၊အမျိုးခြား
သောမိန်းမသည် ကျဉ်းသော မြေတွင်း ကဲ့သို့ငှင်
၂၈ ဖြစ်၏။– သူသည် ထားမြ ကဲ့ သို့ ချောင်း ကြည့်

ထတော်၏၊ ထွန်းလျှူးသော သောက်ခွက်၊ ရွှား ဖြား ဖြစ်ခြင်း ရှိပြီ တတ်၏၊
၂၉ အဘယ်သူသည် ဝမ်းနည်း ခြင်း ရှိသနည်း။ အဘယ်သူသည်ညည်းတွားခြင်းရှိသနည်း။ အဘယ်သူသည် ရန်တွေ့ခြင်းရှိသနည်း။ အဘယ်သူသည်မြည်တမ်းခြင်းရှိသနည်း။ အဘယ်သူသည်အကြောင်းမရှိ၊ ထိခိုက်၍နာခြင်း ရှိသနည်း။ အဘယ်သူသည် မျက်စိ နီခြင်း ရှိ
၃၀ သနည်း၊ ထိုသူကား၊- စပျစ်ရည် ကို ကြာမြင့်စွာ သောက်လျက်နေသောသူ၊ သေးနှင့်ရောသော
စပျစ်ရည်ကိုရှာတတ်သောသူတို့သည်ထိုသို့သော
၃၁ အကျိုးကိုခံရကြ၏။- ဖန်ခွက်၌နီလျက်၊ အရောင်တောက်လျက်၊ အမြဲ အမြိန် ဝင်လျက် ရှိသော
၃၂ စပျစ်ရည်ကိုမကြည့်မရှုနှင့်။-နောက်ဆုံး၌မြွေကဲ့သို့ ကိုက်တတ်၏၊ မြွေဆိုးကဲ့သို့နာစေတတ်၏။-
၃၃ သင့်မျက်စိတို့သည် အမျိုးသမီး မိန်းမတို့ကို ကြည့်ရှု၍၊ သင့် နှလုံးသည် ထည်း ကောက်
၃၄ သော စကားကိုပြောဆိုလိမ့်မည်။- အကယ်စင် စင်သင်သည် ပင်လယ်အထဲ၌အိပ်သောသူ၊ သင်္ဘောရွက်တိုင် ထိပ်ပေါ်မှာ အိပ်သော သူကဲ့
၃၅ သို့ဖြစ်လိမ့်မည်၊- သူတို့သည် ငါ့ကိုရိုက်ကြပြီး သို့သော်လည်းငါမနာ၊ ငါ့ကိုထိုးကြသော်လည်း ငါမသိ၊ အဘယ် အချိန်မှ ငါနိုးရမည်နည်း။ ထပ်၍ငါရှာဦးမည်ဟုသင်ဆိုလိမ့်သတည်း။

၄

၁ မတရားသော သူတို့ကို မငြူစူနှင့်၊ သူတို့နှင့်
၂ ပေါင်းဖော် ခြင်းငှါ အလို မရှိနှင့်။- သူတို့သည် ဖျက်ဆီး ခြင်းငှါ နှလုံးကြံစည်တတ်၏၊ နှုတ် နှင့်လည်း ထောင်းရမည်စကားကို ပြောတတ်၏။-
၃ ဉာဏ် ပညာအားဖြင့်အိမ်ကို တည်ဆောက်၍
၄ ခိုင်ခံ့ မြဲမြံစေရ၏။- ပညာအတတ် အားဖြင့် အခန်းများတို့သည်အဘိုးထိုက်၍၊ နှစ်သက်ဖွယ်
၅ သောဥစ္စာအပေါင်းတို့နှင့်ပြည့်ရကြ၏။- ပညာ ရှိသောသူသည် တန်ခိုးရှိ၏၊ ပညာအတတ်နှင့် ပြည့်စုံသောသူသည် ခွန်အားတိုးပွားတတ်၏။-
၆ ပညာရှိတို့နှင့်တိုင်ပင်ပြီးမှစစ်မှုကိုပြုရ၏၊အကြံ ပေးနိုင်သောသူများစွာရှိလျှင်၊ဘေးလွတ်တတ်
၇ ၏။- ပညာမြင့်သောကြောင့် မိုက်သောသူ မမှီ
၈ နိုင်၊ မြို့တံခါး ဝ၌ စကား မပြောဝံ့။- မကောင်း သောအမှုကိုပြုခြင်းငှါကြံစည်သောသူကိုဘေး
၉ ပြုသောသူဟူ၍ခေါ်ရ၏။- မိုက်သော အကြံအစည်၌ အပြစ်ပါ၏၊ မထီမဲ့မြင်ပြုသော သူသည်

၁၀ လူ့ရှုတ်ချရာဖြစ်၏။- ဒုက္ခကာလ၌ စိတ်ပျက်လျှင် အမှုရောက်သောကာလ၌ စိတ်ပျက်လျှင်အား
၁၁ နည်း၏။- သတ်ရမည့်သူ ဆွဲ၍ အသေခံရ သောသူတို့ကိုသတ်သည်ရှိတတ်သော်ငြားအား
၁၂ လုပ်ကိုင်နေလျှင်-ငါတို့မသိပါ ဆိုသော်သည်၊ နှလုံး၏ အထောက်ကို စဉ်းစားသော သူသည်မမှတ်၊ သင်၏ စိတ်ဝိဉာဉ်ကို စောင့်သောသူသည် မသိ သလော၊ လူအသီးအသီးတို့အား သူတို့အကျင့်နှင့်အ လျောက်၊ အကျိုးအပြစ်ကို မဆပ် မပေးဘဲ နေ တော်မူမည်လော။
၁၃ ငါ့သား၊ ပျားရည်ကောင်းသောကြောင့် စား လော့၊ ချိုမြိန်သောပျားသကိုကိုလည်းစားလော့။-
၁၄ ထိုအတူ၊ သင် တွေ့ရသော ပညာ တရားသည် စိတ်ဝိညာဉ်၌ အရသာနှင့်ပြည့်စုံ၍၊ သင်သည် မျှော်လင့်ခြင်း အကြောင်းမပျက်၊ ကောင်းသော
၁၅ အကျိုးကိုခံရလိမ့်မည်။- အိုမတရားသောသူ၊ ဖြောင့်မတ်သောသူ၏ အိမ်ကိုချောင်း၍မကြည့်
၁၆ နှင့်၊သူ၏ငြိမ်ဝပ်ရာအရပ်ကိုမဖျက်နှင့်။-ဖြောင့် မတ်သောသူသည် ခုနစ်ကြိမ်လဲသော်လည်းထ
၁၇ ပြန်လိမ့်မည်၊မတရားသောသူမူကား၊ လဲသော အခါဆုံးရှုံးလိမ့်မည်။- သင်၏ရန်သူလဲသောအ ခါဝမ်းမမြောက်နှင့်၊မြေထိခိုက်သောအခါ၊ နှင်
၁၈ တန်းသောစိတ်မရှိနှင့်။- ရှိလျှင်ထာဝရဘုရား သိမြင်သဖြင့်၊မနှစ်သက်ဘဲသူ့မှအမျက်တော်ကို
၁၉ ဖြေတော်မူမည်။-မတရားသောသူတို့ကြောင့်စိတ်
၂၀ မပူနှင့်၊ အဓမ္မလူတို့ကိုမငြူစူနှင့်၊-အကြောင်းမူ ကား၊ မတရားသော သူသည်အကျိုးကိုမရ၊ အ
၂၁ ဓမ္မလူ၏ မီးခွက်သည် သေလိမ့်မည်။- ငါ့သား၊ ထာဝရဘုရားကို၎င်း၊ ရှင်ဘုရင်ကို၎င်း ကြောက် ရွံ့လော့၊ မတည် ကြည် သော သူတို့ နှင့် မရော
၂၂ နှောနှင့်၊ မပေါင်းဖော်နှင့်၊- သူတို့သေးသည် ရုတ် ချည်းရောက်တတ်၏၊ ထိုနှစ်ပါးတို့၏ အဆုံးကိုအ ဘယ်သူသိသနည်း။
၂၃ ထိုမှတပါး၊ ပညာရှိတို့နှင့်ဆိုင်သောစကားတို့ ရှိသေး၏။ တရားတွေ့မှု စီရင်ရာတွင် လူမျက်နှာကို
၂၄ မထောက်ကောင်း၊-သင်သည်ဖြောင့်မတ်၏ဟု၊ မတရားသောသူအား ဆိုသောသူကို လူအမျိုးတို့ သည် ကျိန်ဆဲကြလိမ့်မည်၊ လူအနွယ်တို့သည်
၂၅ စက်ဆုပ်ရွံရှာကြလိမ့်မည်၊-ဆုံးမပြစ်တင်သော သူတို့မူကား၊ စိတ် သာယာလျက်၊ ကောင်းကြီး
၂၆ မင်္ဂလာကိုခံလျက် ရှိကြ လိမ့် မည်။- မှန်သော စကားကို ပြန်ပြော တတ်သော သူ၏ နှုတ်ကိုလူ

  

၂၇ ထိုင်း နှစ်း ထိန့် စည်း။- ပြင်အရပ်မှာ သင်၏ အ
လုပ်ကို ပြင်လော့။ လယ်တော၌ ကိုယ်အဖို့ ပြင်
ဆင်လော့။ နောက်မှ သင်၏နေရာအိမ်ကို ဆောက်
၂၈ လော့။- သင်၏အိမ်နီးချင်းတဘက်၌ အကြောင်း
မရှိဘဲ သက်သေမခံနှင့်။ ကိုယ်နှုတ်နှင့်သူတပါး
၂၉ ကိုလှည့်စားနှင့်။- သူသည်ငါ၌ပြုသည်အတိုင်း
သူ၌ငါပြုမည်။ သူကျင့်သည့်အကျင့်အကျိုး
အပြစ်ကိုငါဆပ်ပေးမည်ဟု မဆိုနှင့်။
၃၀ ပျင်းရိသော သူ၏ လယ်တော၊ နှင့်
ဉာဏ်မရှိသောသူ၏ စပျစ်ဥယျာဉ် အနားမှာငါ
၃၁ ရှောက်သွားစဉ်၊- ဆူးပင်များပြွမ်း၍၊ မြေတ
ပြင်လုံး၌ ဆူးလေပင်အမှုန့်အပြား ဖုံးလွှမ်းလျက်၊
၃၂ ကျောက်ရိုး ပြိုလျက်ရှိသည်ကို- ငါမြင်၍စေ့စေ့
ဆင်ခြင်၏။ ကြည့်ရှု၍ သွန်သင်ခြင်းကို ခံရ၏။-
၃၃ တဖန်အိပ်လျက်၊ တဖန်ပျော်လျက် အိပ်ပျော်ခြင်း၊
၃၄ ငါ၊ တဖန်လက်ချင်းပိုက်လျက်နေစဉ်တွင်-သင်၏
ဆင်းရဲခြင်းသည် ခရီးသွားသော သူကဲ့သို့၎င်း၊ ဥစ္စာ
ပျက်စီးခြင်းသည် သူရဲကဲ့သို့၎င်း ရောက်လာ
လိမ့်မည်။

၂၅

၁ ထိုမှ ရှင်ဘုရင်ဟေဇကိ လူတို့ ကူး ရေး သော
၂ ရှောလမုန်၏ သုတ္တံစကားဟူမူကား၊- အမှု
အရေးကို ဝှက် ထားခြင်း သည် ဘုရားသခင်၏
ဂုဏ်တော်နှင့်သင့်၏။ ရှင်ဘုရင်မူကား၊ အမှုအ
ရေးကို စစ်ကြော ခြင်း အားဖြင့် ဂုဏ် အသရေ
၃ ရှိသည်။- မိုဃ်းကောင်းကင် သည်မြင့်၏။ မြေ
ကြီးသည် နက်၏။ ရှင်ဘုရင် နှလုံးကို ထည်း
၄ စစ်၍ မသိ နိုင်။- ငွေ ထဲက ချေးကို ထုတ် ပယ်
လျှင်၊ ပန်းတိမ်သမားနှင့်တော်သင့်သောဖလား
၅ ကိုရလိမ့်မည်။-မတရားသောသူတို့ကိုရှင်ဘုရင်
ထံတော်မှ ပယ်ရှားလျှင်၊ ပလ္လင် တော် သည်
၆ တရားအားဖြင့် တည်လိမ့်မည်။- ရှင်ဘုရင် ထံ
တော်၌ကိုယ်ကိုမချီးမြှောက်နှင့်။လူကြီးနေရာ၌
၇ မနေနှင့်။-အကြောင်းမူကား၊မူးမြင်ရသောမင်း
ရှေ့မှာနှိမ့်ချခြင်းကိုခံရသည်ထက်၊ ဤအရပ်သို့
တက်ပါဟူသောစကားကိုသာ၍ကြားကောင်း
၈ ၏။- အလျင် အမြန် ရန် မတွေ့ နှင့်။ အိမ် နီး ချင်း
သည်သင့်ကိုအရှက်ခွဲပြီးမှ၊ သင်သည်အဘယ်
၉ သို့ပြု မည် နည်း။- သင်သည် အိမ် နီး ချင်း နှင့်
ကိုယ် အမှုကို ဆွေး နွေးလော့။ ဝှက် ထားအပ်
သော အမှုအရာကို သူတပါး အား ထုတ်၍ မပြ
၁၀ နှင့်။- သို့မဟုတ်၊ သူသည် သင့်ကို အရှက်ခွဲ၍ သ
ခြင်း၊ သင်၏ ဂုဏ် အသရေသည် အစဉ် ဆုံးလိမ့်
၁၁ မည်။- လျောက်ပတ် သော စကား သည် ငွေ အ
ပြောက်မှာ ချထား သော ရွှေပန်းသီးနှင့် တူ
၁၂ ၏။- နားထောင် တတ်သော သူကို ဆုံးမ တတ်
သော ပညာရှိသည် ရွှေနားတောင်းကဲ့
၁၃ သို့၎င်း၊ ရွှေဝင် တန်ဆာ ကဲ့သို့ ၎င်း ဖြစ်၏။- စပါး
ရိတ်ရာကာလ၌ မိုဃ်းပွင့်ကြောင့် ချမ်းသကဲ့သို့၊
သစ္စာစောင့်သောတမန်သည်စေလွှတ်သောသူ၌
၁၄ ဖြစ်၏၊ သခင်စိတ်ကိုချမ်းသာစေတတ်၏။-ပေးစရာ
ထုံးကြွား၍ မပေးဘဲ နေသော သူသည် မိုဃ်း
၁၅ ရေမပါသော တိမ်နှင့် လေ ကဲ့သို့ ဖြစ်၏။- ကြာ
မြင့်စွာသည်းခံလျှင် မင်းကိုဖျောင်းဖျနိုင်၏။ နူး
ညံ့သောစကားသည်လည်း အရိုးကို ချိုးဖြတ်
နိုင်၏။
၁၆ ပျားရည်ကိုတွေ့သလော။ ဝရုံသာစားလော့။
အစားလွန်လျှင် ရင်ပြည့်၍ အန်ရလိမ့်မည်။-
၁၇ သင်၏ အိမ်နီးချင်းအိမ်၌ ကြာမြင့်စွာ မနေနှင့်။
နေလျှင် သူ သည် သင့် ကို ငြီး ငွေ့ ၍ မုန်း လိမ့်
၁၈ မည်။-အိမ်နီးချင်းတဘက်၌မမှန်သောသက်သေ
ကိုခံသောသူသည်ဒုတ်၊ ထား၊ သံချွန် နှင့်တူ၏။-
၁၉ အမှုရောက်သောကာလ၌သစ္စာပျက် တတ်သော
သူကိုယုံလျှင်သွားကျိုးခြင်း၊ ခြေထော်လွဲခြင်း
၂၀ ကိုခံရ၏။- စိတ်ညှိုးငယ်သောသူအားသီချင်းဆို
သောသူသည် ဆောင်းကာလ၌ အဝတ်ကိုချွတ်
သောသူ၊ ယမ်းစိမ်းပေါ်မှာ ပုံးရည်ကို လောင်း
၂၁ သောသူနှင့်တူ၏။- သင်၏ရန်သူသည် မွတ်သိပ်
လျှင်လုပ်ကျွေးလော့။ ရေငတ်လျှင်သောက်စရာ
၂၂ ကိုပေးလော့။-ထိုသို့ပြုလျှင်သူ၏ခေါင်းပေါ်၌မီး
ခဲကိုပုံထား၍၊ ထာဝရဘုရားသည်လည်း။ သင်
၂၃ ၌ဆုချတော်မူမည်။-မြောက်လေသည်မိုဃ်းရေ
ကို ဆောင် တတ် သကဲ့သို့၊ ကုန်း တိုက်သော လျှာ
၂၄ သည် ဒေါသ မျက် နှာကို ဆောင် တတ်၏။- ရန်
တွေ့ တတ်သော မိန်းမနှင့် လူ များ သော အိမ်၌ နေ
သည်ထက် အိမ်မိုးပေါ်၌ ထောင့်ထဲမှာ နေသော်
၂၅ သာ၍ကောင်း၏။- ဝေးသောပြည်မှရောက်လာ
သော ဝမ်းမြောက်စရာ သိတင်းစကားသည် ရေ
ငတ် သော သူ၌ ချမ်း သော ရေ ကဲ့သို့ ဖြစ်၏။-
၂၆ ဖြောင့် မတ်သော သူသည် မတရားသောသူရှေ့
တွင် မှား ယွင်းလျှင်၊ နောက် သော ရေတွင်း၊ ပုပ်
၂၇ သော စမ်းရေ တွင်း နှင့် တူ၏။- ပျားရည်ကို အား
ကျူး၍ စားခြင်း မကောင်း သကဲ့သို့၊ ကိုယ်ဂုဏ်အသ
ရေကိုရှာလျှင်ဂုဏ်အသရေမရှိ- ကိုယ်စိတ်ကို

မျှော်စီတည်း၊ နိုင်သောသူသည် မြို့ရိုးပြိုပျက်၍
ထင်းထင်းရှိသောမြို့နှင့်တူ၏။

၂၆

၁ နွေကာလ၌မိုဃ်းရွာကဲ့သို့၎င်း၊ စပါးရိတ်ရာ
ကာလ၌ မိုဃ်းရေကဲ့သို့၎င်း၊ မိုက်သောသူသည်
၂ ရိုသေသရေကိုမခံသင့်။- စာငှက်သည်အရပ်
ရပ် လှည့်လည်၍၊ စာရက်သည်လည်း ပျံသွား
သကဲ့သို့၊ ထိုနည်းတူ အကြောင်းမရှိသောကျိန်
၃ ဆဲခြင်းသည်မသင့်မရောက်တတ်။- မြင်းအို့နှင်
တံ၊ မြည်းအိုဇက်ကြိုး၊ မိုက်သော သူ၏ ကျောအို
၄ ကြိမ်လုံးသည် သင့်လေ၏။- မိုက်သော သူ၏ သ
ဘောသို့လိုက်၍၊ သူ၏စကားကိုမချေနှင့်၊ ထိုသို့
၅ ချေလျှင်သူနှင့်တူလိမ့်မည်။- မိုက်သော သူ၏ သ
ဘောသို့ လိုက်၍ သူ၏စကားကို ချေလော့၊ သို့မ
ဟုတ်၊ သူသည် ဝါကြွားသော စိတ်ရှိလိမ့်မည်။-
၆ မိုက်သောသူတွင် မှာလိုက်သောသူသည်ကိုယ်
၇ ခြေကိုဖြတ်၍ အကျိုးနည်းရှိ၏။-သူ၏စကားကို
မိုက်သောသူ ပြောခြင်းသည် ခြေဆွံ့သော သူ၏
၈ ခြေ ကြွခြင်းကဲ့သို့ ဖြစ်၏။- မိုက်သော သူကို ချီး
မြှောက်ခြင်းသည်ကျောက်ပုံ၌ကျောက်မြတ်ကို
၉ မြှပ် ထားခြင်းကဲ့သို့ ဖြစ်၏။- ယူးသည် သစ်မှူး
သောသူ၏ လက်ကို စူးသကဲ့သို့၊ သူတို့ စကား
သည်မိုက်သောသူ၏နှုတ်၌ရှိ၏။- ကြီးသောသူ
သည် ခပ်သိမ်းသောသူတို့ကို တန်လျှပ်စေတတ်
၏၊ မိုက်သောသူနှင့်ပြစ်မှားတတ်သောသူတို့ကို
၁၀ စေသုံးတတ်၏။-ခွေးသည်မိမိအန်ဖတ်ကိုပြန်၍
စားတတ်သကဲ့သို့၊ မိုက်သောသူသည်မိုက်သော
၁၁ အကျင့်ကိုပြန်၍ကျင့်တတ်၏။- ငါသည်ပညာရှိ
၏ဟု ထင်သောသူရှိလျှင်၊ ထိုသူ၌မျှော်လင့်စရာ
အခွင့်ရှိသည်ထက်၊ မိုက်သောသူ၌သာ၍ မျှော်
၁၂ လင့်စရာ အခွင့်ရှိ၏။- ပျင်း ရိသော သူက၊ အိမ်
ပြင်မှာခြင်္သေ့ရှိ၏၊ လမ်း၌ခြင်္သေ့ရှိ၏ဟု ဆို
၁၃ တတ်၏။- တံခါးရွက်သည် စွေ့ခြင်း၌ လည်သကဲ့
သို့ ပျင်းရိသော သူသည် အိပ်ရာပေါ်မှာ လည်
၁၄ တတ်၏။- ပျင်းရိသောသူသည်မိမိလက်ကိုအိုး၌
သွင်းသော်လည်း၊ တဖန်နှုတ်၍ မိမိပစပ်သို့ဆွဲရ
၁၅ လျှင် စိတ်ညစ်တတ်၏။- ပျင်းရိသော သူက၊ ငါ
သည် အကျိုးအကြောင်းကို ပြတတ်သော သူ
ခုနစ် ယောက် ထက် သာ၍ ပညာရှိသည်ဟု၊
ကိုယ်ကိုထင်တတ်၏။
၁၆ ထမ်း၍သွားရာတွင်သူ့အမှု၌ မဆိုင်သောအမှုကို
ရောရှက်သောသူသည်၊ ခွေး၏နားရွက်ကို ကိုင်ဆွဲ
သောသူနှင့် တူ၏။- ငါ ကျီစားရုံမျှသာ ပြုသည်
၁၉ ဟု ဆိုလျက်၊ မိမိ အိမ်နီးချင်းကို လှည့်စားသော
သူသည် မီးစ၊ မြှား၊ သေသေးကို ပြစ်တတ်သော
၂၀ အရူးနှင့်တူ၏။-ထင်းမရှိလျှင် မီးသေတတ်သကဲ့
သို့၎င်း၊ ကုန်းတိုက်သောသူမရှိလျှင် ရန်ငြိမ်းတတ်၏။-
၂၁ မီးခဲမှင်းပြုသကဲ့သို့၎င်း၊ ထင်းသည်မီးကိုမွေးသ
ကဲ့သို့၎င်း၊ ရန်တွေ့တတ်သောသူသည်မိုက်ရန်မှု
၂၂ ကိုပြုစုတတ်၏။- ကုန်း တိုက် သောသူ၏ စကား
သည် ဖြိန်သော ခဲဖွယ် စားဖွယ် ကဲ့သို့ ဖြစ်၍၊
၂၃ ဝမ်းအတွင်းသို့ဝင်တတ်၏။-ချစ်အားကြီးသော
နှုတ်နှင့်၊ ဆိုးညစ်သော စိတ် နှလုံး သည် ငွေ
၂၄ ချွမ်းမံသောအိုးခြမ်းနှင့်တူ၏။-အငြိုးထားသော
သူသည် နှုတ် ဖြင့် လျှို့ဝှက် ၍၊ ကိုယ် အထဲမှာ
လှည့်စားသော သဘောကို ဝှက်ထားတတ်၏။-
၂၅ ထိုသို့သော သူ၏ စကားသည် ချိုသော်လည်းမ
ယုံနှင့်၊ သူ၏ စိတ်နှလုံး ထဲမှာ စက်ဆုပ် ဖွယ်ရာ
၂၆ ခုနစ်ပါးရှိ၏။-အငြိုးထားခြင်း
ကို လှည့်စားခြင်းအားဖြင့် ဝှက်ထားသောသူ၏
ဒုစရိုက် အပြစ်သည် ပရိသတ်ရှေ့မှာ ထင်ရှား
၂၇ လိမ့်မည်။- တွင်းတူးသောသူသည်မိမိတွင်းထဲ
သို့ ကျ လိမ့်မည်၊ ကျောက်ကို လှိမ့်သော သူအ
ပေါ်သို့ ထိုကျောက်သည်ပြန်၍လိမ့်လိမ့်မည်။-
၂၈ မုသာ ပြော တတ် သော သူသည် မိမိ ညှဉ်းဆဲ
သောသူတို့ကိုမုန်းတတ်၏။ချော့မော့တတ်သော
သူသည်ထည်းဖျက်ဆီးတတ်၏။

၂၇

၁ နက်ဖန်နေ့ကိုအမှီပြု၍မဝါကြွားနှင့်။တရက်
အတွင်း တွင် အ ဘယ် သို့ ဖြစ်လိမ့် မည်ကို မသိ
၂ နိုင်။- ကိုယ်ထိုင်ကိုယ် ကို မချီးမွမ်းဘဲ သူတပါး
ချီးမွမ်းပါလေစေ။ကိုယ် နှုတ်နှင့် ကိုယ်ကိုမချီး
မွမ်းဘဲ၊ ကိုယ်နှင့်မဆိုင်သော သူတပါး ချီးမွမ်း
၃ ပါလေစေ။- ကျောက်နှင့်သဲသည်လေး၏၊ မိုက်
သောသူ၏ ဒေါသသည် ထို နှစ်ပါး ထက်သာ၍
၄ လေး၏။-မာနသည်ကြမ်းကြုတ်သောသဘောရှိ
၏။ဒေါသထည်ပြင်းထန်တတ်၏၊ ငြူစူသောစိတ်
၅ ကိုကား၊ အဘယ်သူဆီး၍ခံနိုင်သနည်း။- ထင်
ရှားစွာ ဆုံးမ ပြစ် တင် ခြင်းသည် တိတ်ဆိတ်စွာ
၆ ချစ်ခြင်းထက်သာ၍ကောင်း၏။- အဆွေခင်ပွန်း
သည် ဒဏ်ပေးသော အခါ ထစွာ စောင့်လျှောက်
ပေး၏၊ ရန်သူမူကား၊ နမ်းသော အခါ လှည့်စား
၇ တတ်၏။-စား၍ဝသောသူသည်ပျားလပို့ကိုပင်
ခြင်းပယ်လိမ့်မည်၊ ငတ် မွတ်သော သူမူကား၊

၈ ဒါးအသော အရပ်ကို ရှိသည့်တိုင်ထင်တတ်၏။- မိမိ
နေရာကိုစွန့်၍ ထည့်သောသူသည် မိမိအသိုက်
၉ ကိုစွန့်၍ထည့်သောငှက်နှင့်တူ၏။- နံ့သာဆီနှင့်
နံ့သာရည်သည် နှင်ထန်းစေသကဲ့သို့၊ ကြည်ညို
သောမိတ်နှင့် အကြံပေးတတ်သော အဆွေခင်
ပွန်း၏ ချစ်ခွယ်သော ထကျွတာသည် နှင်ထန်း
၁၀ စေတတ်၏။- ကိုယ်အဆွေခင်ပွန်းနှင့်အဘ၏အ
ဆွေခင်ပွန်းကို မစွန့်နှင့်။ အမှုရောက်သော ကာ
လ၌၊ ညီအစ်ကိုအိမ်သို့မသွားနှင့်။ နီးသောအိမ်
နီးချင်းသည် ဝေးသော ညီအစ်ကို ထက် သာ၍
၁၁ ကောင်း၏။- ငါ့သား၊ ပညာရှိလော့။ ကဲ့ရဲ့သောသူ
၏စကားကိုငါချေနိုင်စေခြင်း၊ ငါ့စိတ်ကိုနှင်ထန်း
၁၂ စေလော့။- သမ္မာသတိရှိသောသူသည် အမှုကို
မျှော်မြင်၍၊ ပုန်းရှောင်လျက်နေတတ်၏။ ညာဏ်
ထိမ်သောသူမူကား၊ အစဉ်အတိုင်းသွား၍အမှု
နှင့်တွေ့တတ်၏
၁၃ မကျွမ်းသော သူအတွက်၊ အာမခံသော
မိန်းမအတွက်၊ အာမခံတတ်သောသူသည်အဝတ်
အစရှိသော ဥစ္စာ တစုံ တခုကို ပေါင်ထားစေ။-
၁၄ နံနက်စောစောထ၍၊ မိမိအဆွေခင်ပွန်းကိုကျယ်
သော အသံနှင့် ကောင်းကြီး ပေးသော သူသည်
၁၅ ကျိန်ဆဲခြင်းကို ပြုရာ ရောက်၏။- ရန်တွေ့တတ်
သောမယားသည် မိုဃ်းသည်းစွာ ရွာသောနေ့
၌ အစဉ်စဉ် ကျသော မိုဃ်းပေါက်နှင့်တူ၏။-
၁၆ ထိုမိန်းမကိုထိမ်းထားသောသူသည်လေကိုထိမ်း
ထားသော သူ နှင့် တူ၏။ လက်ျာ လက်၌ လိမ်း
၁၇ သော နံ့သာဆီကို ဖုံး၍ မထားနိုင်။- သံကိုသံ
ဖြင့်ထက်စေသကဲ့သို့၊ လူသည်အဆွေခင်ပွန်း၏
၁၈ ရွှတ်နှာကို ထက်စေ တတ်၏။- သင်္ဘောသဖန်း
ပင်ကိုစောင့်သောသူသည်သင်္ဘောသဖန်းသီးကို
စားရ၏။ ထိုနည်းတူ၊ သခင်အမှုကို ဆောင်ရွက်
၁၉ သောသူသည်ဂုဏ်အသရေကိုရတတ်၏။-ရေ၌
လူမျက်နှာချင်း တူသကဲ့သို့၊ လူ တယောက်နှင့်
၂၀ တယောက်စိတ်သဘောတူကြ၏။-မရဏာနိုင်ငံ
နှင့် အဗဒ္ဒုန်နိုင်ငံသည် အလိုမပြည့်နိုင်သကဲ့သို့၊
၂၁ လူတို့မျက်စိသည်အလိုမပြည့်နိုင်တတ်။- ငွေစစ်
ရာအို့ မိုက်ရှိ၏၊ ရွှေစစ်ရာအို့ မီးဖိုရှိ၏၊ လူကို
၂၂ စစ်ရာအို့သူတပါးချီးမွမ်းခြင်းရှိ၏။-မိုက်သော
သူကို စပါးနှင့်အတူ ဆုံ၌ ကျည်ပွေ့နှင့် ထောင်း
သော်လည်း၊ မိုက်သောသဘောမကွာတတ်၊
၂၃ သင်၏ သိုးစုအကြောင်းတို့ကို သိခြင်းငှါ ကြိုး
စားလော့။ နွားစုတို့ကိုလည်း ဂရုစိုက်ကြည့်ရှု
၂၄ လော့။- စည်းစိမ်သည် အမြဲမတည်တတ်။ ရှင်
ဘုရင်၏ စည်းစိမ်သော်လည်း၊ လူမျိုးအစဉ်အ
၂၅ ဆက် မတည်တတ်။- မြက်ပင်ပေါ်တတ်၏။
မျိုးပင်လည်း ထင်ရှား တတ်၏။ တောင်ထက် အ
၂၆ သီးကိုလည်း သိမ်းရ၏။- သိုးသငယ်တို့သည်
အဝတ်စရာအို့၊ ဆိတ်တို့လည်း မြေအဖိုး ကို
၂၇ ပြေစရာအို့ဖြစ်၏။-သင်စားစရာအို့၊အိမ်သူအိမ်
သား စားစရာအို့၊ ကျွန်မိန်းမများကို ကျွေးစရာအို့
ဆိတ်နို့လောက်လိမ့်မည်။

၂၈

လိုက်သောသူမရှိသော်လည်း၊ မတရားသော
သူသည် ပြေးတတ်၏။ ဖြောင့်မတ်သော သူမူ
၂ ကား၊ ခြင်္သေ့ကဲ့သို့ရဲရင့်တတ်၏။-ပြည်သူပြည်
သားအပြစ်ကြောင့်၊ မင်းတို့သည် များပြားတတ်
ကြ၏။ ညာဏ်ပညာနှင့်ပြည့်စုံသောသူအားဖြင့်
၃ နိုင်ငံတည်တတ်၏။- ဆင်းရဲသားတို့ကို ညှဉ်း
ဆဲသောဆင်းရဲသားသည်အထယ်စားစရာမှမ
ကြွင်းစေဘဲ၊ သုတ်သင်ပယ်ရှင်းသော မိုဃ်းရေ
၄ နှင့်တူ၏။-တရားကိုဖျက်သောသူသည် မတရား
သောသူတို့ကို ချီးမွမ်းတတ်၏။ တရားကိုစောင့်
သော သူ မူ ကား၊ သူ တို့နှင့် ဆန့်ကျင် ထတ် ပြု
၅ တတ်၏။- အ စွေ လူ သည် တရား စီရင် ခြင်းကို
နားမလည်တတ်၊ ထာဝရဘုရားကိုရှာသောသူ
မူကား၊ ခပ် သိမ်းသော စီရင်ခြင်းကို နားလည်
၆ တတ်၏။- မမှန်သောအမှုကိုပြုသောသူသည်ငွေ
ရ တတ်သော်လည်း၊ ဖြောင့် မတ်ခြင်း ထမ်းဆို့
လိုက်သော ဆင်းရဲ သား သည် သာ၍ မြတ်၏။-
၇ တရား ကို စောင့် သော သူ သည် ပညာ ရှိ သော
သားဖြစ်၏။ စားကြူးသောသူတို့နှင့် ပေါင်းဖော်
သောသူမူကား၊ မိမိ အဘကို အရှက် ခွဲတတ်၏။-
၈ အတိုး စား၍ မတရားသော အမြတ် အား ဖြင့်
ဥစ္စာကို ဆည်းဖူးသောသူသည် ဆင်းရဲသားတို့
ကိုသနားသောသူအဖို့သာ ဆည်းဖူးတတ်၏။-
၉ တရားမနာ၊ ဖဲ့ဘွားသော သူသည် ဆုတောင်း
သော်လည်း၊ သူ၏ပဌနာ စကားသည် စက်ဆုပ်
၁၀ ရွံရှာဘွယ်ဖြစ်၏။-ဖြောင့်မတ်သောသူကိုလမ်း
လွှဲ၍၊ မကောင်းသော လမ်းထဲသို့ သွေးဆောင်
သောသူသည် မိမိ တူးသော တွင်းထဲသို့ မိမိကျ
လိမ့်မည်။ အ သော ဖြောင့် သော သူ မူ ကား၊
ကောင်းသော အရာတို့ကို အမွေခံရလိမ့်မည်။-
၁၁ ငွေ ရ တတ် သော သူကား၊ ငါသည် ပညာရှိ၏ဟု
ကိုယ် ကို ထင် တတ် ၏။ ညာဏ် ကောင်း သော

ဆင်းရဲသားမူကား၊ ထိုသူကို စစ်ကြော တတ်
၁၂ ၏။- ဖြောင့်မတ်သော သူတို့သည် ဝမ်းမြောက်
သောအခါ၊ဘုန်းကြီး တတ်၏၊ မတရားသောသူ
တို့သည် မျိုးမြောက် ခြင်းသို့ ရောက်သော အခါ၊
၁၃ လူတို့သည်ပုန်းရှောင်၍နေတတ်ကြ၏။- မိမိအ
ပြစ်ကိုဖုံးထားသောသူသည်ချမ်းသာမရ၊မိမိ
အပြစ်ကိုဖော်ပြဝန်ချ၍ စွန့်ပြစ်သောသူမူကား၊
၁၄ ကရုဏာတော်ကိုခံရလိမ့်မည်။- အစဉ်မပြတ်
ကြောက်ရွံ့သော သူသည် မင်္ဂလာရှိ၏၊ မိမိစိတ်
နှစ်လုံးကိုခိုင်မာစေသောသူမူကား၊ဘေးဥပါတ်
၁၅ နှင့် တွေ့လိမ့်မည်၊- ဆင်းရဲ သားတို့ကို အုပ်စိုး
သော အစိုးမင်းသည် ဟောက် သော ခြင်္သေ့၊
၁၆ ဖျည့်ထည်သော ဝံနှင့်တူ၏။- ဉာဏ်မရှိသော
မင်းသည်ပြင်းစွာညှဉ်းဆဲတတ်၏၊လောဘကို
မုန်းသော မင်းမူကား၊ အသက် တာရှည် လိမ့်
၁၇ မည်။- လူအသက်ကို ညှဉ်းဆဲ သော သူ သည်
သင်းချိုင်းတွင်းသို့ပြေးပါလေစေ၊အဘယ်သူမျှ
မဆီးတားစေနှင့်၊
၁၈ ဖြောင့်သော ထမ်းသို့ လိုက် သော သူ သည်
ဘေးလွတ် လိမ့် မည်၊ ကောက် သော ထမ်း သို့
လိုက်သော သူ မူကား၊ ချက်ချင်း လဲလိမ့်မည်။-
၁၉ ထယ်ထိုးသောသူသည်ဝစွာစားရ၏၊ အချည်း
နှီးသော အမှုကို စောင့်သောသူမူကား၊ ဆင်းရဲ
၂၀ ခြင်းနှင့်ဝလိမ့်မည်။-သစ္စာစောင့်သောသူသည်
ကောင်းကြီးမင်္ဂလာနှင့် ကြွယ်ဝလိမ့်မည်၊ ငွေရ
တတ်ခြင်းငှါ အလျင် အမြန် ပြုသော သူမူကား၊
၂၁ အပြစ်နှင့် မလွတ်ရ။- လူမျက်နှာကို မထောက်
ကောင်း။ သို့သော်လည်း၊ လူသည်မုန့်တဖဲ့ကိုရ
၂၂ ခြင်းငှါရာဇဝတ်ကို ပြုလိမ့်မည်။-ငွေရတတ်ခြင်း
ငှါအလျင်အမြန် ပြုသောသူသည် မနာလိုသော
သဘောရှိတတ်၏၊ နောက်တဖန်ဆင်းရဲခြင်းသို့
၂၃ ရောက်မည်ဟု မအောင်းမေ့တတ်။- ချော့မော့
သောစကားကိုပြောသောသူသည်ကျေးဇူးကိုခံ
ရသည်ထက်၊ ဆုံးမပြစ်တင်သောသူသည်နောက်
၂၄ တဖန်သာ၍ကျေးဇူးကိုခံရလိမ့်မည်။- အပြစ်မ
ရှိဟု ဆိုလျက်၊မိဘဥစ္စာကိုလုယူသော သူသည်
ဖျက်ဆီးသော သူ၏ အပေါင်းအဖော် ဖြစ်၏။-
၂၅ စိတ်မြင့်သောသူသည် ရိုက်ရန်ကိုနှိုးဆော်တတ်
၏၊ ထာဝရဘုရားကိုခိုလှုံသောသူမူကား၊ကြွယ်
၂၆ ဝတတ်၏။- မိမိစိတ်နှစ်လုံးကို ကိုးစားသောသူ
သည် လူမိုက်ဖြစ်၏၊ ပညာသတိနှင့် ကျင့်သော
၂၇ သူမူကား၊ ဘေးလွတ်တတ်၏။- ဆင်းရဲသားတို့
အားစွန့်ကြဲသော သူသည် ကိုယ်တိုင်မဆင်းရဲ
ရ၊ ထွေ့ရှောင်သောသူမူကား၊ များစွာသော ကျိန်
ဆဲခြင်းကို ခံရလိမ့်မည်။- မတရား သော သူတို့
သည် မျိုးမြောက်ခြင်းသို့ ရောက်သောအခါ၊ လူ
တို့သည်ပုန်းရှောင်၍ နေရကြ၏၊ပျက်စီးခြင်းသို့
ရောက်သောအခါ၊ဖြောင့်မတ်သောသူတို့သည်
ပွားများတတ်ကြ၏။

၂၉

၁ အထပ်ထပ် ဆုံးမခြင်းကို ခံသော်လည်း၊ မိမိ
လည်ပင်းကို ခိုင်မာစေသော သူသည် ကိုးကွယ်
၂ ရာမရ၊ ရုပ်တရက် ပျက်စီးလိမ့် မည်။- ဖြောင့်
မတ်သောသူတို့သည် အခွင့်ရသောအခါ၊ ပြည်
သူ ပြည်သားတို့ သည် ဝမ်းမြောက် တတ်ကြ၏၊
မတရားသော သူတို့ သည် အုပ်စိုး သော အခါမူ
ကား၊ ပြည် သူ ပြည် သား တို့ သည် ဝမ်း နည်း
၃ တတ်ကြ၏။- ပညာတရားကို နှစ်သက်သော သူ
သည် မိမိအဖကို ဝမ်း မြောက် စေ၏၊ ပြည် တန်
ဆာတို့နှင့် ပေါင်းဖော်သောသူမူကား၊ ဥစ္စာပြုန်း
၄ တီးတတ်၏။- တရားသဖြင့်စီရင်သောရှင်ဘုရင်
သည်တိုင်းပြည်ကို တည်စေတတ်၏၊ တံမိုးစား
သောရှင်ဘုရင်မူကား၊တိုင်းပြည်ကိုဖောက်ဖျက်
၅ တတ် ၏၊- အိမ်နီးချင်းကို ချော့မော့သော သူ
သည် အိမ်နီးချင်း သွားရာ ထမ်း၌ ကွန်ရက်ကို
၆ ဖြန့်ထား၏။- အဓမ္မလူ ပြစ်မှားရာ၌ ကျော့ကွင်း
ထောင် လျက်ရှိ၏၊ ဖြောင့်မတ်သော သူမူကား၊
၇ ရွှင်လန်းစွာ သီခြင်း ဆို တတ်၏။- ဖြောင့်မတ်
သောသူသည် ဆင်းရဲသားအမှုကိုဆင်ခြင်တတ်
၏၊ မတရားသောသူမူကား၊ထိုအမှုကိုပမာဏမ
၈ ပြုတတ်၊-မထီမဲ့ခြင်ပြုသောသူတို့သည်မြို့ကိုမီး
ရှို့တတ်၏၊ ပညာရှိသောသူတို့မူကား၊ ဒေါသအ
၉ မျက်ကိုတွဲတတ်၏။- ပညာရှိသောသူသည်မိုက်
သော သူနှင့် အမှု တွေ့လျှင်၊ စိတ်ဆိုး သည် ဖြစ်
စေ၊ပြုံးရယ်သည်ဖြစ်စေ၊အားရစရာအကြောင်း
၁၀ မရှိ။-လူအသက်ကိုသတ်တတ်သောသူတို့သည်
စုံ ထင်သော သူကို မုန်းတတ်ကြ၏၊ ဖြောင့်မတ်
သောသူတို့မူကား၊ သူတပါးအသက်ကိုစောင့်မ
၁၁ တတ်ကြ၏။- မိုက်သောသူသည် မိမိကြံစည်သ
မျှကိုဖော်ပြတတ်၏၊ပညာရှိသောသူမူကား၊ အ
၁၂ ဆင်မသင့်မှီထိမ်ဖုံးတတ်၏။- မင်းသည်မုသာ
စကား ကို နား ထောင်လျှင်၊ ကျွန် အပေါင်း တို့
၁၃ သည် လူဆိုးဖြစ်ကြလိမ့်မည်။- ဆင်းရဲသောသူ
နှင့် ညှဉ်းဆဲသော သူတို့သည် တွေကြုံကြ၍။

ထာဝရဘုရားသည် ထိုနှစ်ဦးတို့အား အလင်းကို
၁၄ ပေးသနားတော်မူ၏။ ဆင်းရဲသားတို့ကို တရား
သဖြင့် စီရင်သော ရှင်ဘုရင်၏ ရာဇပလ္လင်တော်
သည် အစဉ်အမြဲ တည်တတ်၏။
၁၅ ကြိမ်လုံးနှင့် ရိုက်ခြင်း၊ ဆုံးမခြင်းအား
ဖြင့် ပညာတိုးပွားတတ်၏။ တတ်ထိုင်းနေစေ
၁၆ သောသူငယ်သည် အမိကို အရှက်ခွဲတတ်၏။ မ
တရားသောသူတို့သည် များပြားသောအခါ၊
အပြစ်ကျူးခြင်း အပြစ်တိုးပွားတတ်၏။ သို့ရာ
တွင်၊ သူတို့ပျက်စီးခြင်းကို ဖြောင့်မတ်သောသူတို့
၁၇ သည် မြင်ရကြ၏။ သင်၏သားကို ဆုံးမလော့။ သို့
ပြုလျှင် သူသည် သင့်ကို ချမ်းသာပေးမည်။ ထိုမျှ
၁၈ မက စိတ်ရွှင်ထန်းစရာ အခွင့်ကိုပေးမည်။ ဗျာ
ဒိတ်တော်မရှိလျှင်၊ လူတို့သည် အကျိုးနည်းဖြစ်
ကြ၏။ တရားတော်ကို စောင့်သောသူမူကား
၁၉ မင်္ဂလာရှိ၏။ စကားအားဖြင့် သာကျွန်ကို ဆုံးမ
၍မနိုင်ရာ။ သူသည် နားထည်သော်လည်း၊ နား
၂၀ မထောင်ဘဲနေလိမ့်မည်။ သတိမရှိဘဲ စကား
များသောသူရှိလျှင်၊ ထိုသူ၌ မျှော်လင့်စရာအခွင့်
ရှိသည်ထက်၊ မိုက်သောသူ၌ သာ၍ မျှော်လင့်
၂၁ စရာအခွင့်ရှိ၏။ ကျွန်သည် ငယ်သောအရွယ်မှ
စ၍ ပျော်ပါးဆောင်ကျွေးမွေးခြင်းကို ခံရလျှင်၊
၂၂ နောက်ဆုံး၌ သားအရာကို ရလိမ့်မည်။ မိတ်
ဆိုးတတ်သောသူသည် ရိုက်ရန်မှုကို နှိုးဆော်
တတ်၏။ ပြင်းထန်သောသူသည်လည်း၊ အလွန်
၂၃ အကျူးများတတ်၏။ မိမိမာနသည် မိမိကို နှိမ့်ချ
လိမ့်မည်။ စိတ်နှိမ့်ချသောသူမူကား၊ ဂုဏ်အသ
၂၄ ရေကို ရလိမ့်မည်။ သူခိုးကို ထောက်ခံသောသူ
သည် မိမိအသက်ကို မုန်းတတ်၏။ ကျိန်ဆိုခြင်း
ကိုပြုသော်လည်း၊ အမှုကို မဖော်မပြတတ်။ လူ
ကိုကြောက်ရွံ့ခြင်းသဘောသည် ကျော့ကွင်းကို
ထောင်တတ်၏။ ထာဝရဘုရားကို ကိုးစားသောသူ
၂၆ မူကား လုံချုံလိမ့်မည်။ မင်းပြုသောကျေးဇူးကို
ရှာသောသူတို့သည် ကြီးစွာ၍ ရှာတတ်ကြ၏။
သို့ရာတွင် ခပ်သိမ်းသောသူတို့၏ အမှုကို ထာဝရ
၂၇ ဘုရားစီရင်တော်မူ၏။ တရားသောသူသည် မ
တရားသောသူကို ငြင်း၊ မတရားသောသူသည်
တရားသဖြင့် ကျင့်သောသူကို ငြင်း၊ စက်ဆုပ်ရွံ
ရှာတတ်၏။

## ၃၀

၁ ယာကေသား အာဂုရသည် ဣသေလနှင့် ဥကလ
၂ ထကို ဆုံးမသော တရားစကားဟူမူကား၊ အ
ကယ်စင်စစ် ငါသည် လူမဟုတ်၊ တိရစ္ဆာန်ဖြစ်
၃ ၏။ လူဉာဏ်နှင့် မပြည့်စုံ။ ပညာတရားကို မ
သင်၊ သန့်ရှင်းသောအရာ ထိုကို မတွေ့ကျွမ်း။
၄ ကောင်းကင်ဘုံသို့ အဘယ်သူတက်သနည်း။ အ
ဘယ်သူဆင်းလာသနည်း။ အဘယ်သူသည်
လေကို မိမိလက်နှင့် ဆုပ်ယူသနည်း။ အဘယ်
သူသည် ရေကို အဝတ်နှင့် ထုပ်ထားသနည်း။
မြေကြီးစွန်းရှိသမျှတို့ကို အဘယ်သူ တည်စေသ
နည်း။ ထိုသို့ပြုသောသူ၏ အမည်နှင့် သူ၏သား
အမည်ကား အဘယ်သို့နည်း။ သင်ပြောနိုင်သ
၅ လော။ ဘုရားသခင်၏ စကားတော်ရှိသမျှသည်
စင်ကြယ်၏။ ခိုလှုံသောသူအပေါင်းတို့၌ ဘုရား
၆ သခင်သည် အကွယ်အကာဖြစ်တော်မူ၏။ စကား
တော်တို့၌ ထပ်၍ မသွင်းနှင့်။ သို့ပြုလျှင် အပြစ်
တင်တော်မူ၍၊ သင်သည် မုသာသုံးသောသူ
ဖြစ်လိမ့်မည်။
၇ ကိုယ်တော်ထံမှာ ဆုနှစ်ပါးကို အကျွန်ုပ်
တောင်းပါ၏။ အကျွန်ုပ်မသေမှီတိုင် ငြင်းပယ်
၈ တော်မမူပါနှင့်။ အကျွန်ုပ်မှ အနတ္တနှင့် မုသားကို
ပယ်တော်မူပါ။ ဆင်းရဲခြင်းနှင့် ငွေရတတ်ခြင်း
ကိုပေးတော်မမူပါနှင့်။ အသက်မွေးလောက်
၉ သောအစာကိုသာ ပေးတော်မူပါ။ သို့မဟုတ်၊
အကျွန်ုပ်သည် ကြွယ်ဝ၍၊ ထာဝရဘုရားကား
အဘယ်သူနည်းဟု ဆိုလျက်၊ ကိုယ်တော်ကို
ငြင်းပယ်မည်ဟု စိုးရိမ်စရာရှိပါ၏။ သို့မဟုတ်၊
ဆင်းရဲ၍ သူ့ဥစ္စာကို ခိုးသဖြင့်၊ အကျွန်ုပ်၏ဘုရား
သခင် နာမတော်ကို မုသာနှင့်ဆိုင်၍ ကျိန်ဆိုမည်
ဟု စိုးရိမ်စရာရှိပါ၏။
၁၀ ကျွန်၏အကျိုးကို ဖျက်ခြင်းငှါ သူ၏သခင်ကို မ
ပြောနှင့်။ ပြောလျှင် ကျွန်သည် သင့်ကို ကျိန်ဆဲ၍၊
၁၁ သင်၌ အပြစ်ရောက်မည်ဟု စိုးရိမ်စရာရှိ၏။ အ
ဖကို ကျိန်ဆဲ၍ အမိကိုလည်း ကောင်းကြီးမပေး
၁၂ တတ်သော လူတမျိုး၊ ငါသည် စင်ကြယ်၏ဟု မိမိ
ကိုထင်သော်လည်း၊ မိမိအညစ်အကြေးမှ မဆေး
၁၃ ကြော သေးသော လူတမျိုး၊ အလွန်မိတ်မြင့်၍
၁၄ မော်ကြည့်တတ်သော လူတမျိုး၊ ဆင်းရဲသော
သူတို့ကို မြေကြီးပေါ်က၎င်း၊ ငတ်မွတ်သောသူတို့
ကို လူစုထဲက၎င်း၊ ကိုက်စားပယ်ရှင်းစရာ ထိုထက်
လျက်နှင့်တူသော သွား၊ ဓားနှင့်တူသော အံနှင့်
၁၅ ပြည့်စုံသော လူတမျိုးရှိ၏။ မျှော့ကောင်၌ ပေး
ပါနှင့် ပေးပါဟုသော သမီးနှစ်ကောင်ရှိ၏။ အထို
အဝမပြေနိုင်သော အရာသုံးပါး၊ အကား တန်သော့

ထုမဆိုတတ်သော အရာလေးပါး ဟူမူကား၊-
၁၆ သင်းချိုင်းတပါး၊ မြုံသောမိန်းမဝမ်းတပါး၊ ရေမ
ဝနိုင်သောမြေတပါး၊ တန်တော့ဟု မဆိုတတ်
၁၇ သော မီးတပါးတည်း။- အဖကို ကဲ့ရဲ့သော
သူ၊ အမိစကားကို နားမထောင်၊ မထီမဲ့မြင်ပြု
သောသူ၏မျက်စိကိုချိုင့်၌ ကျင်လည်သောကျီး
အတို့သည် နှိုက်ဖြိုလိမ့်မည်၊ ရွှေလင်းတသ
၁၈ ငယ်တို့သည်လည်းစားကြလိမ့်မည်။-ငါသိ၍
မမှီနိုင်သော အရာသုံးပါးမက၊ ငါမသိ၊ နားမ
လည်နိုင်သော အရာလေးပါး ဟူမူကား၊-
၁၉ ဝေဟင်၌ရွှေလင်းတသွားရာလမ်းတပါး၊ ကျောက်
ပေါ်မှာ မြွေသွားရာလမ်းတပါး၊ ပင်လယ်အ
လယ်၌ သင်္ဘောသွားရာ လမ်းတပါး၊ အပျိုမ
နှင့် ယောက်ျား သွားရာ လမ်းတပါးတည်း။-
၂၀ မျောက်မထားသော မိန်းမ၏လမ်းလည်း ထိုအတူ
ဖြစ်၏၊ အစာစားပြီးမှ မိမိပါးစပ်ကို သုတ်၍၊ ဒုစ
ရိုက်ကိုငါမပြုမိဟု ဆိုတတ်၏။
၂၁ မြေကြီးကိုမွှေနှောက်သောအရာသုံးပါးမက၊
မြေကြီးမခံနိုင်သော အရာလေးပါး ဟူမူကား၊-
၂၂ မင်း ပြုသော ကျွန် တပါး၊ ဝစွာ စားရသော လူ
၂၃ မိုက် တပါး၊- ထက်ထပ်သော မိန်းမ ဆိုး တပါး၊
သခင်မ ဥစ္စာ ကို အမွေ ခံရ သော ကျွန်မ တပါး
၂၄ တည်း။- မြေကြီးပေါ်မှာ သေးငယ်သော်လည်း၊
အထူးသဖြင့် ပညာရှိသော အရာလေးပါး ဟူမူ
၂၅ ကား၊-ခွန်အားမရှိသောအမျိုးဖြစ်သော်လည်း၊
နွေကာလ၌မိမိစားစရာကို ပြင်ဆင်တတ်သောပု
၂၆ ရွက်ဆိတ်တပါး၊- မသန်စွမ်းသော အမျိုးဖြစ်
သော် လည်း၊ ကျောက်တွင်း၌ နေရာ ချတတ်
၂၇ သောရှာဖန်ယုန်တပါး၊- မင်းမရှိသော်လည်း၊
တပ်ဖွဲ့၍ အစည်အတိုင်း သွားတတ်သောကျိုင်း
၂၈ တပါး၊- လက်ဖြင့်ကိုင်ဆွဲ၍၊ နန်းတော်၌ပင်နေ
၂၉ တတ်သောအိမ်မျှောင် တပါးတည်း။- ကောင်း
စွာ သွားတတ်သော အရာ သုံးပါးမက၊ အသွား
၃၀ လှသောအရာလေးပါး ဟူမူကား၊-တိရိစ္ဆာန်တ
ကာတို့ထက် ခွန်အား ကြီး၍၊ အဘယ်သူကိုမျှမ
၃၁ ရှောင် တတ်သော ခြင်္သေ့ တပါး၊- စစ်မြင်းတ
ပါး၊ ဆိတ်ထီး တပါး၊ အဘယ်သူမျှ မဆီးတား
၃၂ နိုင် သော ရှင်ဘုရင် တပါး တည်း။- သင် သည်
ကိုယ် ကို ချီး မြှောက်၍ မိုက်သော အမှုကို ပြုမိ
သော်၎င်း၊ မကောင်းသော အကြံကို ကြံမိ သော်
၃၃ ၎င်း၊ သင်၏နှုတ်ကိုလက်နှင့်ပိတ်ထားလော့။-အ
ကယ်စင်စစ်နို့ကိုမွှေလျှင် ထောပတ်ထွက်တတ်
၏။-နှာခေါင်းကိုဆွဲဆိတ်လျှင်အသွေးထွက်တတ်
၏၊ ထိုနည်းတူ၊ ဒေါသကိုနှိုးဆော်လျှင်ရန်
ထွက်တတ်၏။

## ၃၁

၁ လေမွေလမင်းကြီး၏မယ်တော်သည်သားကို
၂ ဆုံးမ သွန်သင်သော တရားစကားဟူမူကား၊- ငါ
သား၊ အဘယ်သို့နည်း၊ ငါဖွားသောသား၊ အ
ဘယ်သို့နည်း၊ ငါ၏သစ္စာဂတိနှင့်ဆိုင်သောသား
၃ အဘယ်သို့ နည်းဟု မေးမြန်း သော်၊- သင်၏အ
စွမ်းသတ္တိကိုမိန်းမတို့အားမပေးနှင့်၊ ရှင်ဘုရင်တို့
ကိုဖျက်ဆီးတတ်သောအရာ၌ သင်၏ အကျင့်အ
၄ ကြံ အပြုအမူတို့ကို မထပ်နှင့်။- အို လေမွေလ၊
စပျစ်ရည်သောက်သောအမှုနှင့်သေရည်သေရက်
သောက်သောအမှုသည်ရှင်ဘုရင်၊ မင်းသားတို့
၅ နှင့် မတော်မသင့်။- သူတို့သည် သောက်လျှင်
တရားတော်ကိုမေ့လျော့၍၊ဆင်းရဲသားအမှုကို
မတရားသဖြင့်စီရင်ဆုံးဖြတ်မည်ဟု မိုးရိမ်စရာ
၆ ရှိ၏။- ဆုံးလုသောသူအား သေရည်သေရက်ကို
၎င်း၊ စိတ်ညစ်သောသူအား စပျစ်ရည်ကို၎င်းပေး
၇ လော့။-ထိုသူသည်သောက်၍မိမိဒုက္ခဆင်းရဲကို
၈ မအောင်းမေ့သဲ မေ့လျော့ပါစေ။- ကိုးကွယ်ရာမ
ရှိသောသူအပေါင်းတို့၏ အမှုကို စောင့်ခြင်းငှါ၊
စကားအသောသူတို့အကျိုးမှာနေ၍ ပြောလော့။-
၉ စကား ပြော လျက်၊ တရား သဖြင့် စီရင် လျက်၊
ဆင်းရဲ ငတ်မွတ် သော သူတို့ ၏ အမှုကို စောင့်
လော့။
၁၀ သီလနှင့်ပြည့်စုံသောမိန်းမကိုအဘယ်သူတွေ့ရ
သနည်း၊ ထိုသို့သောမိန်းမသည်ပတ္တမြားထက်အ
၁၁ ဘိုးသာ၍ထိုက်ပေ၏။- သူ၏ခင်ပွန်းသည်သူကို
၁၂ ယုံ၍၊ဆင်းရဲခြင်းနှင့်ကင်းလွတ်လိမ့်မည်။- ထို
မယားသည် မိမိခင်ပွန်း အကျိုးကို မဖျက်၊ အ
၁၃ သက်လုံးပြုစုတတ်၏။-သိုးမွေးနှင့်ဝါကိုရှာ၍၊
၁၄ မိမိလက်နှင့်အလိုအလျောက်လုပ်တတ်၏။-ကုန်
သည်သင်္ဘောကဲ့သို့ဖြစ်၍၊စားစရာကိုဝေးသော
၁၅ အရပ်မှ ဆောင်ခဲ့ တတ်၏။- မိုးမလင်းမှီထ
လျက်၊ အိမ်သူအိမ်သားတို့အားစားစရာကို၎င်း၊
ကျွန်မတို့အားအခန်းအတာကို၎င်းပေးဝေတတ်
၁၆ ၏။- ကောင်းစွန်စွာဆင်ခြင်၍၊ လယ်ကွက်ကို
ဝယ်ယူတတ်၏၊ ကိုယ်တိုင်လုပ်၍ရသောငွေနှင့်
၁၇ စပျစ်ဥယျာဉ်ကိုပြုစုတတ်၏။-မိမိခါးကိုခွန်အား
နှင့်စည်း၍၊ မိမိလက်တို့ကိုသန်မြန်စေတတ်၏။-
၁၈ မိမိလုပ်သောဥစ္စာကောင်းသည်ကို ရိပ်မိ၍၊သူ

၁၉ လက်ဝါးဖြန့်၍ ခွံကိုကိုင်တတ်၏။ ချည်မျှင်ကို ဆိုက်မျှင်ကို ကိုယ်တိုင်
ဖြစ်စေတတ်သောတန်ဆာထိုကိုကိုယ်ထက်နှင့်
၂၀ ကိုင်၍ထုပ်ဆောင်တတ်၏။ ဆင်းရဲသောသူတို့
အားလက်ကိုဖြန့်၍၊ ငတ်မွတ်သောသူတို့အား
၂၁ လက်ရုံးကိုဆန့်တတ်၏။ မိုဃ်းပွင့်ကျသော်
လည်း၊ မိမိအိမ်သူအိမ်သားတို့အတွက် မပူး
မိုက်၊ အိမ်သူအိမ်သားအပေါင်းတို့သည်ကတ္တီ
၂၂ ပါနီကိုဝတ်ရကြ၏။ ကိုယ်အဖို့ခေါင်းအုံတို့ကိုရက်
၍၊ ပိတ်ချော နှင့် မောင်းသော အထည်ကို ဝတ်
၂၃ တတ်၏။ သူ၏ခင်ပွန်းသည်လည်း မြို့တံခါးဝ၌
ပြည်သား အသက်ကြီးသူ တို့နှင့် ထိုင်၍၊ ထင်
၂၄ ရှားသောသူ ဖြစ်ရ၏။ ချောသော အထည်ကို အ
လိပ်ကိုရက်၍ ရောင်းတတ်၏၊ ခါးစည်းတို့ကို
၂၅ ကုန်သည်၌ အပ်တတ်၏။ သူ၏ ဝတ်သောအ
ထည်အလိပ်သည် ခိုင်ခံ့၍၊ လှသောအဆင်းနှင့်
ပြည့်စုံ သဖြင့်၊ သူသည် နောင်ကာလ၌ ဝမ်း
၂၆ မြောက်လိမ့်မည်။ ပညာနှင့် တရားကို ပြောဆို
၍၊ မေတ္တာတရားအားဖြင့် နှုတ်မြွက်တတ်၏။
၂၇ အိမ်သူအိမ်သား ပြုမူသမျှတို့ကို ကြည့်ရှုတတ်၏။
၂၈ ငါး ပျင်းရိခြင်း အစာကိုမစားတတ်။ သူ၏သား
တို့သည်ထ၍၊ အမိကိုကောင်းကြီးပေးတတ်
၂၉ ကြ၏။ သူ၏ခင်ပွန်းလည်း ထ၍ချီးမွမ်းလျက်၊ များ
စွာသော မိန်းမ တို့သည် ကောင်းမွန်စွာ ပြုကြပြီ၊ သို့ရာတွင်
သင်သည် ထိုသူ အပေါင်းတို့ကို လွန်ပြီဟု
၃၀ သူကို ချီးမွမ်းတတ်၏။ လည်ပတ်သော အ
ရာသည် လှည့်စားခြင်းနှင့် ဖြစ်တတ်၏။ လှ
သော အဆင်း သည်လည်း အချည်းနှီး ဖြစ်၏။
ထာဝရ ဘုရားကို ကြောက်ရွံ့သော မိန်းမမူကား
၃၁ ချီးမွမ်းခြင်းကို ခံရလိမ့်မည်။ ထိုသို့သော မိန်းမ
ကျင့်ရာ အကျိုးကို ပေးလော့။ သူ ပြုသော အမှု
သည်မြို့တံခါးဝ၌ သူ၏အသရေကိုထင်ရှားစေ
သတည်း။

ရှင်ဘုရင်ဆောလမုန်မင်းရေးထားသောသုတ္တံကျမ်းပြီး၏။

# ဒေသနာကျမ်း။

## ECCLESIASTES

၁

၁ ဒါဝိဒ်၏သားတော်၊ ယေရုရှလင်မြို့၌ ဒေသနာဆရာ ဖြစ်
သော ယေရုရှလင်မင်းကြီး၏ စကားဟူမူကား။
၂ အနတ္တသက်သက်၊ အနတ္တသက်သက်၊ ခပ်သိမ်း
၃ သောအရာတို့သည်အနတ္တဖြစ်ကြ၏။ လူသည်
နေအောက်မှာ ကြိုးစားအားထုတ် သမျှတို့၌အ
၄ ဘယ်အကျိုးရှိသနည်း။ လူတဆက်လွန်သွား
၏၊ တဆက်ပေါ်လာ၏၊ မြေကြီးမူကားအစဉ်အ
၅ မြဲတည်၏။ နေသည်းထွက်လျက် ဝင်လျက်၊
ထွက်ရာအရပ်သို့တဖန်ပြေးလျက်၊ တောင်ထမ်း
သို့လိုက်၍၊ တဖန်မြောက်ယမ်းသို့ပြန်ထည်
၆ တတ်၏။ လေသည်လည်းအစဉ်လည်သွား၍၊
လည်ပြီးသောအရပ်သို့ တဖန်ပြန်၍ လည်ပြန်
၇ တတ်၏။ ခပ်သိမ်းသော မြစ်တို့သည် ပင်လယ်
ထဲသို့ စီးကြ၏၊ သို့သော်လည်း၊ ပင်လယ်
သည်မပြည့်တတ်၊ မြစ်ရေသည် စီးထွက်ရာအ
၈ ရပ်သို့ တဖန် ပြန်သွားတတ်၏။ ခပ်သိမ်းသော
အရာတို့သည်လူမပြောနိုင်အောင် ပင်ပန်းခြင်း
နှင့်ရှိကြ၏၊ မျက်စိသည် မြင်၍ မရောင့်ရဲ။
၉ နားသည် ကြား၍ မဝတတ်။ ဖြစ်ဖူး
သောအရာသည်ဖြစ်လတ္တံ့သော အရာနှင့်တူ၏၊
ပြုဖူးသောအမှုသည် ပြုလတ္တံ့သောအမှုနှင့်တူ
၏၊ နေအောက်မှာ အသစ်သော အမှုအရာ မရှိ။
၁၀ ကြည့်ပါ၊ အသစ်ဖြစ်၏ဟု ဆိုရသော အမှုအရာ
တစုံတခုရှိသလော၊ ထိုအမှုအရာသည်ငါတို့မ
၁၁ ရှင်မှီ ရှေးကာလ၌ ဖြစ်ဘူးပြီ။ ရှေးဖြစ်ဖူးသော
အမှုအရာတို့ကို မေ့လျော့တတ်၏၊ နောက်ဖြစ်လ
တ္တံ့သော အမှုအရာ တို့ကိုလည်း၊ ထိုအမှု နောက်
နောက်၌ဖြစ်လတ္တံ့သော သူတို့သည် မေ့လျော့ကြ
လိမ့်မည်။

၁၂ ငါဒေသနာဆရာသည်၊ယေရုရှလင်မြို့၌ဣ
၁၃ သရေလအရှင်ဘုရင်ဖြစ်စဉ်တွင်- မိုဃ်းကောင်း
ကင်အောက်၌ပြုသမျှတို့ကို ဉာဏ်ပညာအား
ဖြင့်၊ ရှာဖွေစစ်ဆေးခြင်းငှါ နှစ်လုံးထား၏။ လူ
သားတို့ကျင်လည်ရာဘို့ထိုပင်ပန်းစေသောအမှု
၁၄ ကိုဘုရားသခင်ပေးတော်မူပြီ။-နေအောက်မှာပြု
လေသမျှသော အမှုအရာတို့ကိုငါမြင်ပြီ၊ အလုံး
စုံတို့သည်အနတ္တအမှု၊ လေကို ကျက်စားသော
၁၅ အမှုဖြစ်ကြ၏။- ကောက်သောအရာကိုမဖြောင့်
၁၆ စေနိုင်၊ ချို့တဲ့သော အရာကိုမရေတွက်ရာ။- ငါ
သည် ကိုယ်စိတ် နှစ်လုံး ထဲမှာ ပြောဆို သည်
ကား၊ငါသည်ငါ့အရင်၊ ယေရုရှလင်မြို့၌ဖြစ်ဘူး
သောသူ အပေါင်းတို့ထက်ကြီးမြင့်၍ပညာရှိ၏၊
အကယ်စင်စစ်ငါ့စိတ်နှလုံးသည်ပညာအတတ်
၁၇ များကိုအထူးသဖြင့်တွေ့ကျက်၏။-ပညာတရား
ကိုရင်၊ လျှပ်ပေါ်ခြင်းနှင့် မိုက်မဲခြင်းတို့ကို ရင်
ဘိုင်းခြား၍ သိအံ့သောငှါ ငါသည် နှစ်လုံးထား
၏။ ထိုအမှုသည်ထည်း၊ လေကိုကျက်စားသော
၁၈ အမှု ဖြစ်သည်ကိုရိပ်မိ၏။- များကြောင်း မှုကား၊
ပညာများလျှင်၊ ငြိုငြင်စရာအကြောင်း များ၏၊
ထိပ်ပွဲ အတတ်တိုးပွားသော သူသည် ဝမ်းနည်း
ခြင်းတိုးပွားတတ်၏။

၂

၁ ထစ်နှင့်ငါသည် ကိုယ်စိတ် နှစ်လုံး ထဲမှာ ပြော
သည်ကား၊လာပါ၊ ရွှင်လန်းခြင်းအားဖြင့်သင့်
ကိုငါစုံစမ်းမည်၊သို့ဖြစ်၍၊ကာမဂုဏ်၌ပျော်မွေ့
လော့ဟု ဆိုရာတွင်၊ ထိုအမှုအရာ သည်ထည်း
၂ အနတ္တဖြစ်လေ၏။- ရယ်မောခြင်းကိုသင်သည်
အရူးဖြစ်၏ဟူ၍ရင်၊ ရွှင်လန်းခြင်းကိုအထယ်
၃ ကြောင့်ဤသို့ပြုသနည်းဟူ၍ရင်ငါဆိုရ၏။- တ
ခန့်လူသားတို့သည်မိုဃ်းကောင်းကင်အောက်
၌၊ အသက်ထုံးပြုသင့်သော အမှုကောင်း ကိုသိ
အံ့သောငှါ၊ ပညာ တရားကို ထွေ ကျက် လျက်
နှင့်၊ စပျစ်ရည် အလိုသို့ လိုက်၍၊ မိုက်သောအ
လျှင့်စလေ့၌ ကျင်လည်ခြင်းငှါ၊ ငါကြံစည်၏။-
၄ ကြီး ကျယ် သော အလုပ်ကို စီရင်၍ အိမ်တို့ကို
ဆောက်၏၊ စပျစ်ဥယည်တို့ကိုလည်း စိုက်၏။-
၅ ဥယဉ်အမျိုးမျိုးကိုပြုစု၍၊ခပ်သိမ်းသောအသီး
၆ မျိုးကိုသီးသောအပင်တို့ကိုလည်းစိုက်၏၊-သစ်
ပင်မျိုးနှင့်ပြည့်စုံသောတောကိုရေလောင်းစရာ
၇ ထိုရေကန်တို့ကိုလည်းလုပ်၏၊-ကျွန်ယောကျာ်း၊
ကျွန်မိန်းမတို့ကိုသိမ်းယူ၍၊ ကျွန်သားပေါက်များ
ထည်းရှိကြ၏၊ငါအရင်၊ယေရုရှလင်မြို့၌ဖြစ်ဘူး
သောသူအပေါင်းတို့ထက်၊ငါသည်တိရိစ္ဆာန်အ
၈ ကြီးအငယ်တို့နှင့် အလွန်ရတတ်၏။- ရွှေငွေကို
ရင်၊ ရှင်ဘုရင်နှင့်ဆိုင်သောဘဏ္ဍာ၊ ကျေးရွာ
တို့၌ ခွဲသော အခွန်ကိုရင်ငါထည်းဖူး၏။ အငြိမ့်
သမားယောကျာ်းမိန်းမတို့ကိုရင်၊ လူသားတို့ ပျော်
မွေ့တတ်သောကြင်လျှာမိန်းမောင်းမမိဿံတို့ကို
၉ ရင်ငါသိမ်းယူ၏။-ထိုသို့ငါအရင်၊ယေရုရှလင်မြို့
၌ ဖြစ်ဘူးသော သူအပေါင်း တို့ ထက်၊ ငါသည်
တိုးပွား၍ ကြီးမြင့် ခြင်းသို့ ရောက် ၏၊ ငါ့ ပညာ
၁၀ သည်း တည်လျှက်ရှိ၏။- ငါ့မျက်စိတပ်မက်လို
ချင်သော အရာ တစုံတခုကိုမျှ ငါမငြင်း။ ငါ့စိတ်
ရွှင်လန်းစရာ တစုံတခုကိုမျှမပယ်၊ ငါကြိုးစား
သမျှတို့၌ ဝမ်းမြောက်လျှက်ရှိ၍၊ ကြိုးစားခြင်း
၁၁ အကျိုးကို ခံရ၏။- ထိုအခါ ငါစီရင်ပြုပြင်သမျှ၊
ငါကြိုးစား၍ အားထုတ်သမျှတို့ကိုငါကြည့်ရှု၍၊
အလုံးစုံတို့သည်အနတ္တအမှု၊ လေကိုကျက်စား
သော အမှု ဖြစ် ကြ၏၊ နေ အောက် မှာ ကောင်း
သောအကျိုးတစုံတခုမျှမရှိ။
၁၂ တဖန်ငါလှည့်၍ပညာတရားကိုရင်၊လျှပ်ပေါ်
ခြင်းနှင့် မိုက်မဲခြင်း တရားတို့ကိုရင် ဆင်ခြင်၏၊
ရှင်ဘုရင်နောက်မှာ ဖြစ်သော သူသည် အထယ်
သို့ပြုနိုင် သနည်း။ ပြုဘူးသည် အတိုင်းသာပြု
၁၃ နိုင်၏။- သို့ရာတွင်၊ အလင်းသည် မှောင်မိုက်
ထက်မြတ်သကဲ့သို့၊ပညာသည်မိုက်မဲခြင်းထက်
၁၄ မြတ်သည်ကို ငါသိမြင်၏။- ပညာရှိသော သူ၏
မျက်စိတို့သည်သူ၏ဦးခေါင်း၌ရှိ၏၊ မိုက်သော
သူမူကား၊ မှောင်မိုက်၌ ကျင်လည်တတ်၏၊ သို့
သော်လည်း၊ထိုသူအပေါင်းတို့သည်တခုတည်း
သောအမှုနှင့်တွေ့ကြုံတတ်သည်ကိုငါရိပ်မိ၏။-
၁၅ သို့ဖြစ်၍၊မိုက်သောသူတွေ့ကြုံသကဲ့သို့၊ငါသည်
တွေ့ကြုံ လျှင်၊ အထယ်ကြောင့် သူထက်သာ၍
ပညာ ရှိသနည်း ဟူ၍ရင်၊ ဤအမှုအရာသည်
ထည်းအနတ္တ ဖြစ်သည်ဟူ၍ရင် ငါအောင်းမေ့
၁၆ ၏။- ယခုဖြစ်သမျှသော အမှုအရာတို့ကို နောင်
ကာလ၌မေ့လျော့လိမ့်မည်ဖြစ်၍၊ မိုက်သောသူ
သည်အစဉ်မအောင်းမေ့သကဲ့သို့၊ပညာရှိသော
သူကိုထည်းအစဉ်မအောင်းမေ့တတ်၊ပညာရှိ
သော သူသည် မိုက် သောသူ သေသကဲ့သို့ သေ
၁၇ တတ်ပါသည်ဘကား။-ထိုကြောင့်၊အသက်ရှင်
ခြင်းကို ငါငြီးငွေ့၏၊ နေအောက်မှာ ပြု ရသော
အမှုသည် ငါ၌ ခံခဲ၏၊ အလုံး စုံ တို့ သည်

တူသော၊ မရကောင်နိုင်ငံ၌ လုပ်ဆောင်ခြင်းမရှိ၊ ကြံစည်ခြင်းမရှိ၊ သိပ္ပံအတတ်မရှိ၊ပညာမရှိပါ တကား။

၁၁ တဖန်နေအောက်မှာ ရှိသောအမှုအရာတို့ကို ငါပြန်၍ ကြည့်ရှုသောအခါ၊ လျင်မြန် သောသူ သည် ပြိုင်၍ ပြေး သော် ထည်း မနိုင် တတ်၊ ခွန် အား ကြီး သော သူ သည် စစ်တိုက်၍ မအောင် တတ်၊ ပညာရှိသောသူသည် ဝစ္စာမစားတတ်၊ ဉာဏ်ကောင်းသော သူသည် စည်းစိမ်ကိုမရ တတ်၊ လိမ္မာသောသူသည် သူတပါးချေးခံ၌ မျက် နှာ မရတတ်၊ ခပ် သိမ်းသော သူတို့၌ ကာလအ ချိန်ရောက်ခြင်း၊ အဆင် သင့်ခြင်း ရှိသည် အတိုင်း၊

၁၂ ဖြစ်တတ်သည်ကိုငါမြင်၏။-လူသည်မိမိကာလ အချိန်ကိုမသိတတ်၊ ဘေးပြုရာပိုက်ကွန် အုပ်မိ သော ငါးကဲ့သို့၎င်း၊ ကျော့ကွင်း၌ ကျော့မိသော ငှက်ကဲ့သို့၎င်း၊လူသားတို့သည်ဘေးပြုရာကာလ ထဲသို့အမှတ်တမဲ့ရောက်၍ကျော့မိတတ်ကြ၏၊

၁၃ နေအောက်မှာငါတွေ့မြင်၍ချီးမွမ်းဖွယ်သော

၁၄ ပညာဟူမူကား၊- မြို့သားနည်းသော မြို့ငယ်တ မြို့ရှိ၏၊ ကြီးသောရှင်ဘုရင်တပါးသည် လာ၍၊ ထို မြို့ပြင်မှာ ကြီး စွာ သော တပ်တို့ကို တည်၍

၁၅ ဝိုင်းထား၏၊-ထိုမြို့၌နေသော ဆင်းရဲ သားပညာ ရှိ တယောက်သည် မိမိပညာအားဖြင့် ထိုမြို့ကို ကယ်တင်၏၊သို့သော်လည်း၊ထိုဆင်းရဲ သားကို

၁၆ အဘယ်သူမျှမအောင်းမေ့၊ ထိုအခါငါဆိုသည် ကား၊ပညာသည် ခွန်အားထက်သာ၍ ကောင်း မြတ်၏၊ သို့သော်လည်း၊ဆင်းရဲသောသူ၏ပညာ ကိုမထီမဲ့မြင် ပြုတတ်ကြ၏၊ သူ၏စကားကိုနားမ

၁၇ ထောင် တတ်ကြ၊- အုပ်စိုးသော သူ သည် မိုက် သောသူတို့တွင် ကျွေးကြော်သော အသံကို နား ထောင်ကြသည်ထက်၊ငြိမ်ဝပ်ရာ၌ပညာရှိပြော သော စကားကို သာ၍ နားထောင် တတ်ကြ၏။-

၁၈ ပညာသည် စစ် လက်နက် ထက် သာ၍ ကောင်း မြတ်၏၊ ဒုစရိုက် ကို ပြု သော သူ သည် ထည်း၊ ကောင်းသောအမှုအများကိုဖျက်ဆီးတတ်၏၊

၁၀

၁ အထုံသမားလုပ်သော နံ့သာဆီကိုသေသော ယင် ကောင်သည် နံစေ သကဲ့သို့၊ အနည်း ငယ် သောအမိုက်သည်ပညာနှင့် ဂုဏ်အသရေထင်

၂ ရှားသောသူကိုထိုအတူဖြစ်စေတတ်၏။- ပညာ ရှိသော သူ၏ နှစ်လုံးသည် မိမိ လက်ျာလက်၌ ရှိ ၏၊ မိုက် သော သူ၏ နှစ် လုံး မူကား၊ မိမိလက်ဝဲ

၃ ထက်၌ရှိ၏။- မိုက်သောသူသည် ထမ်းခွ် သွား စည်တွင်ပင်သတိထစ်၍၊ ငါသည်လူမိုက်ဖြစ်၏ ဟု၊ ခပ်သိမ်း သော သူတို့ အား ပြော တတ်၏။-

၄ မင်း သည် သင့်ကို မိတ်ဆိုးလျှင်၊ ကိုယ် ရှာသင့် ရာ အရပ် မှ မရွှေ့နှင့်၊ သည်းခံ ခြင်းသည် ကြီး သောအပြစ်ကိုပြေတတ်၏၊

၅ မင်း မှားယွင်းခြင်း အားဖြင့် ဖြစ်တတ်သော နေအောက်၌ငါမြင်ရသောအမှုဆိုးဟူမူကား-

၆ မိုက်သောသူတို့သည်မြင့်သောအရပ်၊သခွေးထို

၇ သည်နိမ့်သောအရပ်၌ ထိုင်ရသောအမှု။- ကျွန် တို့သည် မြင်းကို စီး၍ မှူးမတ် တို့သည် ကျွန်ကဲ့ သို့ မြေပေါ်မှာ ခြေဖြင့် သွား ရသော အမှုကို ငါ

၈ မြင်လေပြီ၊- တွင်းကိုတူးသောသူသည် ထိုတွင်း ထဲသို့ကျလိမ့်မည်၊ ခြံကိုဖျက်သောသူသည် မြွေ

၉ ကိုက်ခြင်းကိုခံရလိမ့်မည်။- ကျောက်တို့ကိုရွှေ့ သောသူသည် ဒိခြင်းကိုခံရလိမ့်မည်၊ ထင်းခုတ်

၁၀ သော သူသည်လည်း ရှုံးလိမ့်မည်။- ပုဆိန်တုံး သောအခါမသွေးဘဲနေလျှင်သာ၍ အားထုတ်ရ မည်၊ ပညာသည် အမှုအောင်ရသော အခွင့်ကို ပေး၍ ကျေးဇူးကြီး၏၊

၁၁ မြွေသည် ပြုစားခြင်းကိုမခံ၊ ကိုက်မိလျှင်အ

၁၂ ထမွှယ်သမားကျေးဇူးမရှိ။-ပညာရှိသောသူ၏ စကားသည် ချောက် ပတ်၏၊ မိုက် သော သူ၏

၁၃ နှုတ်မူကား၊သူကိုယ်ကိုမျိုတတ်၏။-သူ၏စကား အစသည်မိုက်ခြင်း၊ အဆုံးသည် အပြစ်ပြုတတ်

၁၄ သောရူးခြင်းဖြစ်၏။-မိုက်သောသူသည်စကား များတတ်၏၊ သို့သော်လည်း၊ဖြစ်လတံ့သောအ ရာကိုလူသည်မပြောနိုင်ရာ၊လူနောက်၌အဘယ် သို့ ဖြစ်လတံ့ သည် ကို အဘယ် သူ ပြောနိုင် သ

၁၅ နည်း။- မြို့သို့သွားသော လမ်းကို မသိသောသူ ကဲ့သို့ မိုက် သော သူ သည် ကြိုးစား အားထုတ် သော်လည်း၊ သူတပါးတို့ကိုပင်ပန်းစေတတ်၏၊

၁၆ ငယ်သားအမျိုးရ၍မှူးမတ်များအချိန်မဲ့နံနက် စောစော စားသောက် တတ်သောပြည်သည် အ

၁၇ မင်္ဂလာ ရှိ၏၊- မင်းသား၊ အမျိုးရ၍ မှူး မတ်တို့ သည် လွန်ကျူး စွာမစား မသောက်ဘဲ၊ အချိန် တန်မှ အားဖြည့်ခြင်းငှါသာ၊ စားသောက်တတ်

၁၈ သော ပြည် သည် မင်္ဂလာ ရှိ၏။- အလွန် ပျင်းရိ ခြင်းအားဖြင့်အိမ်သည်ဆွေးမြေ့တတ်၏၊ လက်

၁၉ နှင့်မပြုမူင်ပါနေလျှင် အိမ်မိုးယိုတတ်၏။- ပျော် မွေ့ခြင်းငှါ ပွဲကို လုပ်တတ်၏၊ စပျစ်ရည်သည် ထည်း ရွှင်လန်းစေတတ်၏၊ငွေမူကား၊အလုံးစုံကို

၁၀ ၌နိုင်တတ်၏။- ရှင်ဘုရင်ကိုစိတ်ဖြင့်မျှမကျိန်ဆဲ
နှင့်၊ လူကြီးကို အိပ်ခန်းထဲ၌ မျှ မကျိန်ဆဲနှင့်၊
မိုဃ်းကောင်းကင်၌ ကျင်လည်သောငှက်သည်
ထိုအသံကိုဆောင်သွားလိမ့်မည်၊ပျံတတ်သော
အကောင်သည်ထိုအမှုကိုဖော်ပြလိမ့်မည်။

## ၁၁

၁ သင်၏အစာကိုရေပေါ်မှာပြစ်ချလော့၊ကာလ
၂ ကြာမြင့်မှ တဖန် တွေ့ ရဦး မည်။- လူ ခုနစ်
ယောက်မက၊ ရှစ်ယောက် တို့အား ဝေမျှလော့။
မြေပေါ်မှာ အဘယ် အမှု ရောက် မည်ကို သင်မ
၃ သိ။- မိုဃ်းတိမ်တို့သည်မိုဃ်းရေနှင့်ပြည့်သော
အခါမြေပေါ်မှာရွာတတ်၏။သစ်ပင်သည်တောင်
အရပ်သို့ လဲ သည် ဖြစ်စေ၊ မြောက် အရပ် သို့ လဲ
၄ သည်ဖြစ်စေ၊လဲသောအရပ်၌နေရာကျ၏။-လေ
ကို မှတ် တတ် သော သူ သည် မျိုးစေ့ ကိုမကြဲ။
မိုဃ်းတိမ်တို့ကိုပမာဏပြုတတ်သောသူသည်
၅ ထည်။ စပါးကို မရိတ်ရ။- နံ့ ဝိညာဉ် သွားရာ
လမ်းကိုရင်၊ကိုယ်ဝန်ဆောင်သောမိန်းမဝမ်း၌အ
ရိုးတို့သည်အဘယ်သို့ကြီးပွားသည်ကိုရင်မသိ
နိုင်သ ကဲ့ သို့၊ အလုံး စုံ တို့ကို ဖန်ဆင်း တော်မူ
သောဘုရားသခင်၏အမှုတော်တို့ကို မသိနိုင်။-
၆ နံနက်အချိန်၌မျိုးစေ့ကိုကြဲလော့။ညဦးအချိန်၌
လည်းမကြဲဘဲမနေနှင့်၊ အကြောင်းမူကား၊ အ
ဘယ်အရာသည် အကျိုးရှိမည်ကိုရင်၊ နှစ်ပါးအ
လုံး တို့သည် ဖည့်အမျှ အကျိုး ရှိမည်ကိုရင် မ
သိနိုင်။
၇ အကယ် စင်စစ် အလင်းသည် ချို၏၊ နေရောင်
၈ ခြည်ကိုမြင်၍ ပျော်ပါးရာရှိ၏။- သို့ ဖြစ်၍၊ လူ
သည် အ သက် တာ ရှည်၍ အ စည် ရှင် ထန်း
သော်လည်း၊ ပျော်မွေ့ကာလကိုအောင်းမေ့ပါ
စေ၊ ထိုကာလကြာမြင့်လိမ့်မည်။ ဖြစ်လာသမျှ
၉ တို့သည်အနတ္တသက်သက်ဖြစ်ကြ၏။-အချင်းလူ
ပျို၊ အ သက် ပျိုသော အခါ ပျော်မွေ့ လော့၊ အ
သက် ပျိုစည် ကာလတွင် စိတ် ရှင် လန်းခြင်းရှိ
လော့၊ ကိုယ်အလိုရှိရာလမ်းနှင့်၊ ကိုယ်ညာ တ်
နှံ့သောလမ်းသို့လိုက်လော့။သို့ရာတွင်၊ ထိုအမှု
အလုံးစုံတို့ကို ဘုရားသခင် စစ်ကြော၍၊ သင့်ကို
၁၀ အပြစ်ပေးတော်မူမည်ဟုအောင်းမေ့လော့။- သို့
ဖြစ်၍၊စိတ်ညှိုးငယ်ခြင်းအကြောင်းနှင့်၊ ကိုယ်
ဆင်းရဲခြင်း အကြောင်းကို ပယ် ရှားလော့။ အ
သက် ငယ်ခြင်း၊ အရာနှင့် အရွယ် ပျိုခြင်း၊ အရာ
သည်အနတ္တဖြစ်၏။

## ၁၂

၁ ငါနေ၍မပျော်နိုင်ဟု ဆိုရသောကာလသည်
မနီး၊ ဆိုးသောကာလမရောက်မှီ၊ ယခုအသက်
ပျိုစည်အခါပင်၊သင့်ကိုဖန်ဆင်းတော်မူသောအ
၂ ရှင်ကိုအောင်းမေ့လော့။-နေနှင့်အလင်း၊ လနှင့်
ကြယ်တို့သည် ကွယ်၍ မိုဃ်းရွာပြီးမှ၊ အထပ်
ထပ်ရွာတတ်သောကာလမရောက်မှီအောင်းမေ့
၃ လော့။ ထိုကာလ၌အိမ်စောင့်တို့သည်တုန်လှုပ်
၍၊ ခိုင်ခံ့သော သူတို့သည် အားလျော့ကြလိမ့်
မည်။ ဆန်ကြိတ်သော သူ တို့သည် နည်းသော
ကြောင့်၊ ရပ်ကြ လိမ့်မည်။ ပြတင်းပေါက်ဖြင့်
ကြည့်သော သူတို့ သည် အလင်းကွယ်ကြ လိမ့်
၄ မည်။- ကြိတ်သံလျော့သောအခါ၊ လမ်းနားမှာ
တံခါးရွက်တို့သည်စေ့လျက်ရှိလိမ့်မည်။ငှက်သံ
ကိုကြားသော အခါ၊ စောစော ထလိမ့်မည်။ သီ
ချင်းသည်မအပေါင်းတို့သည်အသံသေးကြလိမ့်
၅ မည်။-ထိုကာလ၌မြင့်သောအရာတို့ကိုကြောက်
ကြလိမ့်မည်။ လမ်း၌ဘေးတွေ့မည်ဟု ထင်ကြ
လိမ့်မည်။ ဗာဒံပင်ပွင့်လိမ့်မည်။ ကျိုင်းကောင်
သည်မိမိ၌ ဝိဝိလေးလိမ့်မည်။ အလိုဆန္ဒလျော့
လိမ့်မည်။အကြောင်းမူကား၊လူသည်ထာဝရနေ
ရာသို့သွားဆဲရှိ၍၊ငိုခြင်းသည်တို့သည်လမ်းထို
၆ ၌လှည့်လည်ကြ၏။-ငွေကြိုးပြတ်ခြင်း၊ရွှေခွက်
ကွဲခြင်း၊ စမ်းရေတွင်း၌ ရေပုံး ပေါက်ခြင်း၊ ရေ
ကျင်းနားမှာစက်ကျိုးခြင်းအခြင်းအရာတို့သည်
၇ ဖြစ်ကြ လိမ့်မည်။- ထိုကာလ၌ မြေမှုန့်သည်နေ
ရင်းမြေသို့ရင်၊ ဝိညာဉ်သည်အရင်ပေးတော်မူ
သောဘုရားသခင်ထံသို့ရင်ပြန်သွားရလိမ့်မည်။
၈ အနတ္တသက်သက်၊အလုံးစုံတို့သည်အနတ္တဖြစ်
၉ ကြသည်ဟု၊ ဓမ္မဒေသနာဆရာဟော၏။-ဓမ္မဒေ
သနာဆရာသည်ပညာရှိသည်အတိုင်း၊ပရိသတ်
တို့ အား ပညာ အတတ် ကို သွန် သင် လေ့ ရှိ၏၊
ထုတ္တ ဝိရိယပြုလျက် ရှာဖွေသော သုတ္တံစကား
၁၀ တို့ကိုရှာဖွေ၍စီရင်၏။- ဓမ္မဒေသနာဆရာသည်
နားထောင်ဖွယ်သောစကားကိုရှာ၍၊ ရေးထား
ချက်စကားသည်ဖြောင့်မတ်သောစကား၊ သစ္စာ
၁၁ စကားဖြစ်၏။- ပညာရှိသောသူ၏ စကား သည်
ဒုတ်ချွန်နှင့်ရင်၊တပါးတည်းသောသိုးထိန်းကြီး
အပ်ပေးတော်မူ၍၊ ပရိသတ်အုပ်တို့ စိုက်ထား
၁၂ သောသံချွန်နှင့်ရင်တူ၏။- တဖန်တုံသော၊ ထို
သို့သောစကားအားဖြင့် ဆုံးမခြင်းကိုခံလော့။ စာ
များကိုစီရင်၍မကုန်နိုင်။စာကိုကြီးစား၍ကြည့်

ရှုခြင်း၊ အမှုသည်၊ ကိုယ်ကိုခြောက်ချွတ်သောအ
မှုဖြစ်၏။
၁၃ အချုပ်အခြာ စကားတော့မူကား၊ ဘုရားသခင်
ကို ကြောက်ရွံ့၍၊ ပညတ်တော်တို့ကို စောင့်
ရှောက်လေလော့၊ ဤမျှကား၊ လူနှင့်ဆိုင်သော
အမှုအရာအလုံးစုံတို့ကိုချုပ်ချသတည်း။ အ
၁၄ ကြောင်းမူကား၊ ဘုရားသခင်သည် ခပ်သိမ်း
သော ဖုံးထားခြင်း၌ စ၍၊ အလုံးစုံသောအမှု
ကောင်း မကောင်းရှိသမျှတို့ကို စစ်ကြော၍၊
တရားအဖြင့်စီရင်တော်မူလတ္တံ့သတည်း။

ရှင်ရှောလမုန်မိရင်ရေးထားသောဒေသနာကျမ်းပြီး၏။

---

# ရှောလမုန်သီချင်း။

## THE SONG OF SOLOMON.

### ၁

၁ သီချင်းတကာတို့တွင် အထွဋ်ဖြစ်သော ရှော
လမုန်သီချင်း။
၂ အခင်နှုတ်ဆက်သောနမ်းခြင်းဖြင့် ကျွန်မကို
နမ်းပါစေ။ ကိုယ်တော်၏မေတ္တာသည်စပျစ်ရည်
၃ ထက်သာ၍ ကောင်းပါ၏။ ကိုယ်တော်၌ မွှေး
ကြိုင်သောနံ့သာဆီကဲ့သို့၊ နာမတော်သည် သွန်း
လောင်းသော နံ့သာဆီဖြစ်ပါ၏။ ထိုကြောင့်သ
တို့သမီးကညာတို့သည် ကိုယ်တော်ကို ချစ်ကြပါ
၄ ၏။ ကျွန်မကိုသွေးဆောင်တော်မူပါ။ ကျွန်မတို့
သည်နောက်တော်သို့ပြေး၍လိုက်ကြပါမည်။ အ
ရှင်မင်းကြီးသည် အိမ်တော် အတွင်းခန်းထဲသို့
ကျွန်မကို ဆောင်ခဲ့တော်မူပြီ။ ကျွန်မတို့ သည်
ကိုယ်တော် ကြောင့် ဝမ်းမြောက် ရွှင်လန်းကြ
မည်။ မေတ္တာတော်ကိုစပျစ်ရည်ထက်သာ၍ ချီး
မွမ်းကြမည်။ သတို့သမီးကညာတို့သည် ကိုယ်
တော်ကိုမှန်ကန်စွာချစ်ကြပါ၏။
၅ ယေရုရှလင်မြို့သူ သမီးတို့၊ ငါသည် ကေဒါတဲ
ကဲ့သို့မည်းသောအဆင်းရှိသော်လည်း၊ ရှောလ
မုန်မင်း၏ကုလားကာကဲ့သို့ တင့်တယ်သေး၏။
၆ ငါသည်နေပူကိုခံ၍ မည်းသောအဆင်းရှိသော
ကြောင့်၊ ငါ့ကိုမကြည့်ရှုကြပါနှင့်။ ငါ့မိခင်၏သား
တို့၊ ထိုသည် ငါ့ကိုမနာလိုသော စိတ်ရှိ၍၊ စပျစ်
ဥယျာဉ်တို့ကို စောင့်စေကြ၏။ ကိုယ်ဥယျာဉ်ကို
မစောင့်ရပါ။
၇ ကျွန်မနှစ်သက်နှစ်လိုရာ အရှင်၊ ကိုယ်တော်
သည်သိုးများကိုအဘယ်မှာထိန်းတော်မူသည်
ကိုရင်၊ မွန်းတည့်အချိန်၌ အဘယ်မှာ အရိပ်ခို
စေတော်မူသည်ကိုရင်ပြတော်မူပါ။ ကျွန်မသည်
အခြားတပါးသောသိုးထိန်းနောက်သို့အဘယ်
ကြောင့်လမ်းလွှဲ၍လိုက်ရပါအံ့နည်း။
၈ မိန်းမတကာတို့ထက် အဆင်းလှသော အမိ
သင်သည် မသိလျှင်၊ သိုးများခြေရာသို့ လိုက်
သွား၍၊ သိုးထိန်းတဲများ အနားမှာသင်၏ ဆိတ်
သငယ်တို့ကိုကျွေးမွေးပါလော့။
၉ ငါချစ်သော နှစ်မ၊ သင့်ကို ဖာရောမင်းရထား
၁၀ ၌ က သော မြင်းနှင့် ငါ ပုံပြုမည်။ သင်၏ ပါး
သွယ် ၌ ရတနာ တန်ဆာ ဆင် လျက်၊ လည်
ပင်း၌ ပုလဲ အသွယ်သွယ် ဆွဲလျက်၊ သင်သည်
၁၁ တင့်တယ်လှ၏။ ငွေနှင့် အပြောက် ရှိသော
ရွှေပုတီး အသွယ်သွယ် ကိုလည်း လုပ်၍ ပေး
ဦးမည်။
၁၂ အရှင်မင်းကြီးသည် စားပွဲတော်နားမှာ ထိုင်
နေစဉ်၊ ငါ့ထံသောနာဒု ဆီမွှေးအနံ့သည်တသွဲ့
၁၃ သွဲ့တလှိုင်လှိုင်ဖြစ်လေ၏။ ငါချစ်ရာ အခင်သည်
ငါ၌ ရနံ့သာ ပုံ ဖြစ်၍၊ ရင်တို့ကြားမှာတ
၁၄ ညဉ့်လုံး အိပ်ရမည်။ ငါ ချစ်ရာ အခင် သည်
အင်္ဂေဒိဥယျာဉ်မှဖြစ်သောဟာနာခတ်စည်း
ကဲ့သို့ဖြစ်ပါ၏။
၁၅ ငါချစ်သောနှစ်မ၊ သင်သည်အဆင်းလှပေ၏။
အလွန်လှပေ၏။ ခိုမျက်စိနှင့်ပြည့်စုံ၏။
၁၆ ငါချစ်ရာ သခင်သည်အဆင်းလှ၍၊ ချစ်ဖွယ်
သောသဘောနှင့်ပြည့်စုံတော်မူ၏။ ငါတို့အိပ်
၁၇ ရာခင်းသည်စိမ်းသောအဆင်းရှိ၏။ ငါတို့အိမ်

နှင့်ထိုင်ထိုသည် အာရဗ်ပင်၊ အမိုးသည် ထင်း
ရှူးပင် ဖြင့်ဖြီးသတည်း။

၂

၁ ကျွန်မသည် ရှာရုန်အရပ် နှင်းဆီပွင့်၊ ကွင်း
ပြင်၌ပေါက်သောနှင်းပွင့်မှာသာ ဖြစ်ပါ၏။
၂ ဆူးတောထဲမှာ နှင်းပွင့် ထင်သကဲ့သို့၊ ငါချစ်
သော သတို့ သမီး သည် လူ မျိုး သမီး စု ထဲ မှာ ထင်
ပေ၏။
၃ တောပင်စုထဲမှာရှောက်ချိုပင်ကဲ့သို့ ငါချစ်ရာ
သခင်သည်လူမျိုးသားစုထဲမှာဖြစ်တော်မူ၏။ငါ
သည်သူ၏အရိပ်ဝယ်ပျော်မွေ့နေထိုင်၍၊မြိန်ရှာ
၄ သော အသီးကိုစားရ၏။- ပွဲခံရာ အိမ်သို့ ငါကို
ဆောင်သွား၍၊ မေတ္တာတော်အလံကို ငါ့အပေါ်
၅ မှာ မိုးတော် မူပြီ။- ငါသည် ချစ်ခြင်း အားဖြင့်
ကြွင်နာသည်ဖြစ်၍၊ ငါ့ကို စပျစ်သီးပျဉ်နှင့်အား
ဖြည့်ကြပါ။ ရှောက်ချိုသီးကိုကျွေး၍သက်သာ
၆ စေကြပါ။- သခင်၏လက်ဝဲလက်သည် ငါ့ခေါင်း
ကို ထောက်မ လျက်၊ လက်ျာ လက်သည် ငါ့ကို
စက်လျက်နေတော်မူပါစေ။
၇ ယေရုရှလင်မြို့သူ့သမီးတို့၊ ငါချစ်သော သတို့သမီး
သည်အလိုလိုမနိုးမှီတိုင်အောင်၊ မလှုပ်မနှိုးမည်
အကြောင်း၊ တော၌ကျင်လည်သောသမင်ဒရယ်
များကိုတိုင်တည်၍သင်တို့ကိုငါမှာထား၏။
၈ ငါ ချစ်ရာ သခင် ၏ စကား သံပေ။ ကြည့် ပါ၊
တောင်ကြီး တောင် ငယ် တို့ကို ခုန်ကျော် လျက်
၉ ကြွလာ၏။- ငါချစ်ရာသခင်သည် သမင်ဒရယ်သ
ငယ်နှင့်တူ၏။ကြည့်ပါ၊အုတ်မြို့ပြင်မှာရပ်တော်
မူ၏။ ပြတင်းပေါက်ဝတွင်ကြည့်လျက်၊ ပြတင်း
ရွက်ကြားမှာ ကိုယ်ကို ပြလျက် နေတော်မူ၏။-
၁၀ ငါချစ်ရာသခင်သည်ခေါ်၍ ပြောသည်ကား၊ ငါ
ချစ် သော နှစ်မ၊ ငါ၏ မိမ္ဘ လှ၊ ထ၍ လာခဲ့ ပါ၊-
၁၁ ဆောင်းကာလ လွန်ပြီ၊ မိုးလည်းစဲ၍ကြည်ထင်
၁၂ ပြီ။- မြေကြီးပေါ်မှာပန်းများပွင့်ကြပြီ၊ ငှက်တို့
မြည်တွန်ချိန်လည်း ရောက်လေပြီ၊ ငါတို့မြေ၌
၁၃ ခြိုးငှက် တွန်သံ ကိုလည်းကြား ရ၏။- သင်္ဘော
သဖန်းပင်သည်စိမ်းသော အသီးကို မှည့်စေ၏၊
စပျစ်နွယ်ပင်လည်းပွင့်လျက်မွှေးကြိုင်၏၊ငါချစ်
၁၄ သောနှစ်မ၊ ငါ၏မိမ္ဘလှ၊ထ၍လာခဲ့ပါ၊- တောင်
ပေါ်၌ ခိုထွံ့ရာ ကျောက်ကြားတွင် ရှိသော ငါ၏
ခြိုးငှက်၊ သင်၏ မျက်နှာကို မြင်ပါရစေ၊ သင်၏
စကားသံကိုကြားပါရစေ၊သင်၏စကားသံသည်
၁၅ ချို၏၊သင်၏မျက်နှာလည်းလှ၏၊- စပျစ်နွယ်ပင်
ထိုကိုဖျက်ဆီးတတ်သောမြေခွေးများ၊နှင့်မြေခွေးက
လေးများကိုငါတို့အိုဖမ်းကြလော့။ ငါတို့စပျစ်
နွယ်ပင်တို့သည်အပွင့်ပွင့်လျက်ရှိကြ၏။
၁၆ ငါချစ်ရာ သခင်ကို ငါဆိုင်ပေ၏။ ငါ့ကိုလည်း
သခင် ဆိုင်ပေ၏။ နှင်းတော၌ကျက်စားတော်မူ
၁၇ ၏။- မိုးသောက်၍ မရိပ်မြင်စွာ အရိပ်မပြေး
မှီ၊ငါချစ်ရာသခင်၊ဗေသာတောင်ပေါ်မှာသမင်
ဒရယ်သငယ်ကဲ့သို့တစ်ခန့်ပြုတော်မူပါ။

၃

၁ ငါသည် ချစ်သောသူကို ညဉ့်အခါ အိပ်ရာ
၂ ပေါ်မှာငါရှာ၏၊ ရှာသော်လည်းမတွေ့။- ငါထ
မည်၊ မြို့လမ်းတို့တွင် လည်မည်၊ ငါသည်ချစ်
သော သူကိုလမ်းမထဲတွင် ရှာမည်ဟု ဆိုလျက်
၃ ရှာသော်လည်းမတွေ့။- မြို့ကိုလည်သော ကင်း
စောင့်တို့သည် ငါ့ကို တွေ့ကြသော်၊ ငါသည်ချစ်
၄ သောသူကိုမြင် ကြသလောဟုငါမေး၏။- သူတို့
မှအနည်းငယ်လွန်ပြန်လျှင်၊ ငါသည်ချစ်သော
သူကိုတွေ့၏။ ငါသည်သူကိုမလွှတ်၊ အမြဲကိုင်၍
ငါ့ကိုဖွားမြင်သောမိခင်၏အိမ်၌ အိပ်ရာအခန်း
ထဲသို့ဆောင်ခဲ့၏။
၅ ယေရုရှလင်မြို့သူ့သမီးတို့၊ ငါချစ်သော သတို့သမီး
သည်အလိုလိုမနိုးမှီတိုင်အောင်၊ မလှုပ်မနှိုးမည်
အကြောင်း၊တော၌ကျင်လည်သောသမင်ဒရယ်
များကိုတိုင်တည်၍၊သင်တို့ကိုငါမှာထား၏။
၆ မုရန်၊လေဗန်အစရှိသောကုန်သည်ရောင်း
တတ်သော နံ့သာမှုန့်မျိုးကိုမီးရှို၍၊ ထသောမီး
ခိုးတိုင် သဏ္ဍာန်ရှိလျက်၊ တောထဲက လာသော
ထိုသူကား၊အဘယ်သူဖြစ်ပါလိမ့်မည်နည်း။
ရှောလမုန်မင်း၏ ယဉ်ပုံတော်ကိုကြည့်ကြ
လော့။သူရဲခြောက်ကျိပ်၊ဣသရေလအမျိုးသား
၇ သူရဲ အခြွေ အရံ ရှိ ကြ ၏။- ထိုသူ အပေါင်းတို့
သည်ထားကိုင်လျက်၊ စစ်မှုစစ်ရေး၌လေ့ကျက်
၈ သော သူဖြစ် ကြ၏။- ညဉ့်အခါ စိုးရိမ် စရာရှိ
သောကြောင့်၊ လူတိုင်း မိမိပေါင်၌ မိမိထားကို
၉ မျှောင် ထား လျက် ရှိ၏။- လေဗနွန် သစ်သား
ဖြင့်ရှောလမုန် မင်းကြီးလုပ်တော်မူသော ယာဉ်
၁၀ ပုံတော် ဖြစ် ၏။- ကွန်းစင် တိုင် တို့ ကို ငွေဖြင့်
၎င်း၊ အောက်ခိုင်းကို ရွှေဖြင့်၎င်း၊ ထိုင်ရန်ဖုံကို နီ
မောင်းသော ကမ္ဗလာဖြင့်၎င်း ပြီးစေတော်မူ၏။
အတွင်းကိုမူကား၊ ယေရုရှလင် မြို့သူ့သမီးတို့သည်
မေတ္တာနှင့်ချယ်လှယ်ကြပြီ။
၁၁ ဇိအုန်သတို့သမီးတို့၊လက်ထပ်မင်္ဂလာဆောင်

သောရေ၊ နှစ်ထုံးတော်ရှင်ထန်းသောရေ၌မထိ
တော်တင်သောဦးရစ်သရဖူကို ဆောင်းတော်မူ
သော ရှောလမုန်မင်းကြီးကို သွား၍ ရှုမြင်ကြ
လော့။

၄

၁ သင်သည် အဆင်းလှပေ၏၊ ငါချစ်သော နှစ်မ၊
အလွန်လှပေ၏။ မျက်နှာပါဆံကြားမှာမြိုးရှက်မိနှင့်
ပြည့်စုံ၏၊ ဆံပင်သည်လည်း ဂိလဒ်တောင်ပေါ်
၂ မှ ဆင်းလာသော ဆိတ်စုကဲ့သို့ ဖြစ်၏။- သင်၏
သွားတို့သည်လည်းအမွေးညှပ်၍၊ ရေချိုးရာမှ
တက်လာသောသိုးစုကဲ့သို့ဖြစ်ကြ၏၊ တကောင်
၃ မျှမလျော့၊ အမွှာသားဖွားတတ်ကြ၏။- နှုတ်ခမ်း
သည်လည်း နီသွေးသောကြိုးနှင့်တူ၏၊ စကား
သံသည်းသာယာပေ၏။နားပန်းဆံကြားမှာပါး
၄ တို့သည်သလဲသီးရှက်နှင့်တူကြ၏။- လည်ပင်း
သည်လည်း၊ သူရဲတို့အသုံးဆောင်တတ်သော
ဒိုင်းလွှား တထောင် ဆွဲထားသော လက်နက် စုံ
တဆောင်ထိုက် တည်း ဟူ သော ဒါဝိဒ် မင်း၏ ရဲ
၅ တိုက်နှင့်တူ၏။- ရင်သားနှစ်ခုကိုသည်နှင်း
တော၌ ကျက်စားသော စရယ်သငယ် အမွှာနှင့်
၆ တူကြ၏။- မိုးသောက်၍ မှောင်မိုက် အရိပ်
မပြေးမှီ၊ ငါသည်မုရန်တောင်နှင့်လောဗန်ကုန်း
၇ သို့သွားမည်။- ငါချစ်သော နှစ်မ၊ သင်သည် အ
ပြစ်တစုံတခုမျှမရှိ၊ တကိုယ်လုံးလှပေ၏။
၈ ငါနှင့်အတူ လေဗနုန် တောင်က လာပါ အ
ပျိုး၊ ငါနှင့်အတူ လေဗနုန် တောင်က လာပါ၊
အာမန တောင် ထိပ်၊ ရှေနိရ တောင်၊ ဟေရမုန်
တောင်ထိပ်၊ ခြင်္သေ့တွင်းများ၊ ကျားသစ်နေရာ
၉ တောင်များအပေါ်ကကြည့်ရှုပါ။- ငါ့နှစ်မ၊ ခင်
ပွန်း၊ သင်သည် ငါ့နှလုံးကို လုယူပြီ၊ သင်၏
မျက်စိတကြည့်၊ လည်ပင်းတန်ဆာဖြင့် ငါ့နှလုံး
၁၀ ကိုလုယူပြီ။- ငါ့နှမ၊ ခင်ပွန်း၊ သင်၏ မေတ္တာ
သည်အလွန်မွှေးပေ၏၊ သင်၏မေတ္တာသည်စပျစ်
ရည်ထက် အထူးသဖြင့်ကောင်းပေ၏၊ သင်လိမ်း
သော နံ့သာဆီ သည် နံ့သာမျိုးတကာ ထိုထက်
၁၁ အထူးသဖြင့်မွှေးကြိုင်ပေ၏။- ခင်ပွန်း၊ သင်၏
နှုတ်ခမ်းသည် ပျားသမိုက်ကဲ့သို့ယိုတတ်၏၊ လျှာ
အောက်မှာနို့နှင့်ပျားရည်ရှိ၏၊အဝတ်တန်ဆာ
သည်လည်းလေဗနုန်အမွှေး အကြိုင်ကဲ့သို့မွှေး
၁၂ ကြိုင်လျက်ရှိ၏။-ငါ့နှမ၊ခင်ပွန်းသည်ဝင်းကာ
သောဥယျာဉ်၊ ပိတ်ထားသောစမ်းရေတွင်း၊ တံဆိပ်
၁၃ ခတ်သော ရေတွင်းဖြစ်ပေ၏။- သင်၏ပျိုးပင်တို့
ကား၊ မွှေးသော အသီးကို သီးတတ်သော သလဲ
၁၄ ဥယျာဉ်၊ နံ့ရပင်နှင့်ရောသောလေဿ။- နံ့ရ
ပင်၊ ကုရကုမပင်၊ ကြံပင်၊ သစ်ကြံပိုးပင်၊ လော
ဗန်ပင်မျိုး၊ မုရန်ပင်၊ အကျော်ပင်၊ အမြတ်ဆုံး
၁၅ သောနံ့သာ ပင်မျိုးပါကြ၏။- ဥယျာဉ်များဆိုင်ရာ
စမ်းရေတွင်း၊ စီးသောရေ၊ လေဗနုန်
တောင် က စီး ထွက် သော မြစ် ရေ ထည်း ဖြစ်သ
တည်း။
၁၆ မြောက် လေ၊ နိုး ပါ။ တောင် လေ၊ လာပါ။ ငါ့
ဥယျာဉ် အပေါ်သို့လာကြပါ။မွှေးကြိုင်သောအနံ့
သည်ပျံ့လွင့်ပါစေ။ငါချစ်ရာသခင်သည်ဥယျာဉ်
တော်သို့ ဝင်၍၊ မွှေးသော အသီး ကို စားတော်မူ
ပါစေ။

၅

၁ ငါ့နှမ၊ ခင်ပွန်း၊ ငါသည်ဥယျာဉ်သို့ ငါဝင်လာ
ပြီ။မုရန်နှင့်နံ့သာမျိုးကိုခံယူပြီ။ပျားရည်နှင့်
ပျားလပို့ကိုစားပြီ၊နို့နှင့်စပျစ်ရည်ကိုသောက်
ပြီ၊ အဆွေတို့၊ စားကြလော့၊ မိတ်ဆွေတို့၊
သောက်ကြ၊ဝစွာသောက်ကြလော့။
၂ ငါသည်အိပ်ပျော်စဉ်၊ နှလုံးနိုးလျက်ရှိ၏၊
ငါ့ချစ်ရာ သခင်၏ စကားသံလေး၊ ငါ့နှမ၊ ငါချစ်
သောအမိ၊ ငါ့ခို၊ ငါ၏စုံလင်သူ၊ တံခါးဖွင့်ပါ၊
ငါ့ခေါင်းသည်နှင်းနှင့်၎င်း၊ ငါ့ဆံပင်သည်ညဉ့်၌
ကျတတ်သော နှင်းစက် များနှင့်၎င်း စိုစွတ်လျက်
လျက်၊ခေါက်၍ နေတော်မူ၏။- ကျွန်မသည်အ
ဝတ်ကိုချွတ်ပါပြီ၊ အဘယ်ကြောင့် ဝတ်ပြန်ရ
မည်နည်း။ ခြေကိုလည်းဆေးပါပြီ၊ တဖန်ညစ်
၃ ညူးအောင် အဘယ်ကြောင့် ပြုရပါမည်နည်း။- ငါ
ချစ်ရာသခင်သည်လက်တော်ကိုတံခါးပေါက်အ
ထဲသို့သွင်းတော်မူသည်ဖြစ်၍၊သူ့ကိုချစ်သနား
၄ သောစိတ်အားကြီးသဖြင့်-ငါချစ်ရာသခင်အား
တံခါးကို ဖွင့်အံ့သောငှါထသောအခါ၊ လက်
မှမုရန်ဆီ၊ လက်ချောင်းတို့မှ ပကတိ မုရန်ဆီ
သည် တံခါးကျင် တိုင် ပေါ်မှာ စက်စက် ကျလေ
၅ ၏။- ငါချစ်ရာသခင်အားငါဖွင့်သည်ရှိသော်၊ငါ
ချစ်ရာသခင်သည် ထွက်သွား နှင့်ပြီ၊ စကားဆို
တော်ကိုစေ့စေ့နားထောင်လျက်၊သခင်ကိုငါရှာ
သော်လည်းမတွေ့၊ ခေါ်သော်လည်းထူးတော်မ
၆ မူ။- မြို့တွင်လည်သောကင်းစောင့်တို့သည်ငါ့ကို
တွေ့သော်၊ နှက်ကြ၍ ရှုတ်ချကြ၏၊ မြို့ရိုးစောင့်
၇ တို့သည်ငါ့မျက်နှာဖုံးကိုလုယူကြ၏။-ဆိုလေရှ
လင်မြို့သူတို့၊ သင်တို့သည် ငါချစ်ရာ သခင် ကို

တွေ့လျှင်၊သူကိုငါချစ်၍ နာနေကြောင်းကိုကြား
ပြောကြပါဟု၊ငါမှာထားတောင်းပန်ပါ၏။
၉ မိန်းမတကာတို့ထက် အဆင်းလှသော အစ်မ၊
သင်ချစ်ရာသခင်သည် အခြားတပါးသောချစ်ရာ
သခင်ထက်အဘယ်သို့သာသနည်း။အကျွန်ုပ်တို့
ကို ထိုသို့မှာထားတောင်းပန်ရမည် အကြောင်း၊
သင်ချစ်ရာသခင်သည်အခြားတပါးသောချစ်ရာ
သခင်ထက်အဘယ်သို့သာသနည်း။
၁၀ ငါချစ်ရာသခင်သည်ဖြူသောအဆင်း၊ နီသော
အဆင်းနှင့်ပြည့်စုံ၍၊ လူတသောင်းတို့တွင် အ
၁၁ ထွတ်အမြတ် ဖြစ်တော်မူ၏။- ဦးခေါင်းတော်
သည်အရှစင်နှင့်တူ၏၊ ဆံပင်တော်သည်ထူထပ်
၁၂ ၍၊ကျီးအဆင်းကဲ့သို့နက်၏။-မျက်စိတော်တို့
သည်နို့၌ချိုး၍လျက်မြစ်ရေပေါ်မှာပုံ့ပုံ့ကြွကြွဝပ်
၁၃ သော ငှက်ခိုနှင့် တူကြ၏။- ပါးတော် တို့သည် နံ့
သာတော၊ မွှေးကြိုင်သော ပန်းတောကဲ့သို့ ဖြစ်၏၊
နှုတ်ခမ်းတော်တို့သည်ပကတိ မုရန်ဆီယိုသော
၁၄ နှင်းပွင့်ကဲ့သို့ဖြစ်ကြ၏။-လက်တော်တို့သည်
မျက်ရွဲစီသော ထက်စွပ် ကဲ့သို့ဖြစ်၏၊ ကိုယ်တော်
သည်နီလာကျောက်ဖြင့် စီချယ်သော ဆင်စွယ်
၁၅ မြကဲ့သို့ဖြစ်၏။- ခြေထောက်တော် တို့သည်
ရွှေစင်အိနပ်ပေါ်၌ တည်သော ကျောက်ဖြူ တိုင်
နှင့် တူကြ၏၊ မျက်နှာ တော် သည် လေဗနုန်
တောင်ကဲ့သို့ဖြစ်၍၊ အာရဇ်ပင်ကဲ့သို့ ထူးမြတ်
၁၆ ပေ၏။-နှုတ်တော်သည်အလွန်ချိုပေ၏။တကိုယ်
လုံး၌ ချစ်ဖွယ်သောဂုဏ်တော် အပေါင်းတို့နှင့်
ပြည့်စုံတော်မူ၏။ ယေရုရှလင် မြို့သူ့ တို့၊ ဤ
သူသည် ငါချစ်ရာသခင်၊ ငါမိတ်ဆွေ ဖြစ်တော်မူ
သတည်း။

၆

၁ မိန်းမတကာတို့ထက် အဆင်းလှသော အစ်မ၊
သင် ချစ်ရာ သခင် သည် အဘယ် အရပ် သို့ ကြွ
တော် မူသနည်း။ အကျွန်ုပ်တို့သည် သင်နှင့် အ
တူ သူ့ကိုရှာရမည်အကြောင်း၊ သင်ချစ်ရာသခင်
သည် အဘယ်အရပ်သို့ ဖဲသွားတော် မူသည်
ကိုပြောပါ။
၂ ငါချစ်ရာ သခင်သည် ဥယျာဉ်တော်၌ သစ်သီး
ကိုစား၍၊ နှင်း ပွင့်ကိုဆွတ်ယူမည်ဟု၊ ဥယျာဉ်
တော်တွင် နံ့သာတောသို့ ဆင်းသွားတော်မူ၏။-
၃ ငါချစ်ရာသခင်သည်ငါ့ကိုဆိုင်တော်မူ၏။ငါသည်
လည်းသခင်ကိုဆိုင်ပေ၏။နှင်းတော၌ကျက်စား
တော်မူ၏။
၄ ငါချစ်သော နှစ်မ၊ သင်သည်တိရဇမြို့ကဲ့သို့လှ
၏။ယေရုရှလင်မြို့ကဲ့သို့တင့်တယ်၏။စစ်မျက်နှာ
၅ ကဲ့သို့ကြောက်မက်ဖွယ်ဖြစ်၏။-သင်၏မျက်စိတို့
ကိုငါမှလွှဲပါ။ သူတို့သည်ငါ့ကိုအောင်ပြီ။သင်၏
ဆံပင် သည်လည်း၊ ဂိလဒ် တောင်ပေါ်မှဆင်း
၆ လာသော ဆိတ်စုကဲ့သို့ဖြစ်၏။- သင်၏ သွားတို့
သည်လည်း၊ ရေချိုးရာမှတက်လာသော သိုးစု
ကဲ့သို့ဖြစ်ကြ၏။ တကောင်မျှမလျော့၊အမွှာသာ
၇ ဖွားတတ်ကြ၏။-နားပန်းဆံကြားမှာပါးတို့သည်
၈ သလဲသီး ရှက် နှင့် တူ ကြ ၏။- မိဖုရား ခြောက်
ကျိပ်၊ မောင်းမမိသံ ရှစ်ကျိပ်၊ အပျိုတော် အ
၉ တိုင်းမသိရှိကြ၏။- ငါ့ခို၊ငါ၏စုံလင်သူသည်ငါ
၌ တပါးတည်းရှိ၏၊ ဖွားမြင်သောမိခင်၌ အချစ်
ဆုံးသော သမီးဖြစ်၏။ လူမျိုးသမီး တို့သည် သူ့ကို
မြင်၍ ကောင်း ကြီး ပေး ကြ၏။ မိဖုရား များနှင့်
မောင်းမမိသံများတို့သည်ချီးမွမ်းကြ၏။
၁၀ ထကဲ့သို့တင့်တယ်လျက်၊နေကဲ့သို့ထွန်းထင်း
လျက်၊ စစ်မျက်နှာကဲ့သို့ကြောက်မက်ဖွယ် ဖြစ်
လျက်၊နံနက်ကဲ့သို့မျှော်ရှုသော သတို့သမီးကား၊
အဘယ်သူနည်း။
၁၁ မြိုင်ထဲမှာ သစ်သီးများကို ကြည့်ရှု၍၊ စပျစ်
နွယ်ပင်သန်သည်မသန်သည်ကိုငှင်း၊ သလဲပင်
ပွင့်သည် မပွင့် သည်ကို ငှင်း သိမြင်း၍၊ ငါမြိုင်စု
၁၂ သော ဥယျာဉ်သို့ ငါ ဆင်းသွား ၏။- သတိမရမီ
ငါ့ပိညည်သည် အမိနဒိပ် ရထားကို စီးသကဲ့သို့
ဖြစ်၏။
၁၃ ဖိုရှုလမိတ်၊ပြန်လာပါ။ပြန်လာပါ။အကျွန်ုပ်
တို့သည် သင့်ကို ရှုမြင် ရမည် အကြောင်း၊ ပြန်
လာပါ။ပြန်လာပါ။
ရှုလမိတ်၌အဘယ်သို့သောအရာကိုတွေ့မြင်
ကြလိမ့်မည်နည်း။ စစ်တပ် နှစ်တပ် ကဲ့သို့တွေ့
မြင်ကြပါမည်။

၇

၁ အိုမင်းသမီး၊ ခြေနင်း စီး လျက်၊ သင် ၏ ခြေတို့
သည်အလွန် တင့်တယ်ပါ၏။ သင်၏ခါးဆစ်တို့
သည်လိမ္မာသောသူပြုပြင်သောကျောက်ကောင်း
၂ ရတနာကဲ့သို့ ဖြစ်ကြပါ၏။- သင်၏ ခါးသည်အ
ရည် နှင့် ပြည့် သော ဖလားလုံး ဖြစ်ပါ ၏။ ဝမ်း
သည်လည်းနှင်းပန်း စီချယ်သောစပါးပုံဖြစ်ပါ
၃ ၏။- သင်၏ရင်သား နှစ်ဖက်တို့သည် ဒရယ်သ
၄ ငယ်အမွှာနှင့်တူကြပါ၏။-လည်ပင်းသည်ဆင်
စွယ် ရဲတိုက် ကဲ့သို့ဖြစ်၏၊ မျက်စိ တို့သည် ဟေရှ

ဘုန် မြို့၊ ဗာသရဗ္ဗိမ်တံခါး နားမှာ ရှိသော ရေ
ကန်ကဲ့သို့ရှင်၏၊ နှာခေါင်းသည် ဒမာသက် မြို့သို့
ရှုတ်နှာပြုသော လေဗနုန်ရဲတိုက်ကဲ့သို့ရှင် ဖြစ်
၅ ပါ၏။- သင်၏ဦးခေါင်းသည်ကရမေလတောင်
နှင့်တူ၍၊ ဆံပင်သည်လည်း နီမောင်းသောတန်
ဆာဆင်ပါ၏၊ မင်းကြီးသည် ကျစ်သော ဆံပင်
နှင့်နှောင်ဖွဲ့လျက်ရှိတော်မူ၏။
၆ ငါချစ်သောနှမ၊ ငါပျော်မွေ့ဖို့ရာသင်သည်အ
လွန်လှပေ၏၊အလွန်ချစ်ဖွယ်သောလက္ခဏာနှင့်
၇ ဖြည့်စုံပေ၏၊- သင်၏အရပ်သည်စွန်ပလွံပင်ကဲ့
သို့ဖြစ်၍၊ သင်၏ ရင်သားတို့သည်၊စွန်ပလွံသီး
၈ ခွဲတ်နှင့်တူကြ၏၊- စွန်ပလွံပင်ကိုငါတက်မည်၊
အကိုင်း အခက် တို့ကို ကိုင်မည်ဟု ငါ ဆိုသော်၊
ထခန်သင်၏ ရင်သားတို့သည်စပျစ်သီးခွဲတ်ကဲ့
သို့ရှင်၊ သင် ရှူသော အသက်အနံ့သည် ရှောက်
၉ ချိုသီး အနံ့ကဲ့သို့ရှင်၊- သင်၏နှုတ် သည်လည်း
အကောင်းဆုံးသောစပျစ်ရည်ကဲ့သို့ရှင်ဖြစ်၏။
ထိုစပျစ်ရည်သည် ငါချစ်ရာ သခင်အဖို့ဖြောင့်
စွာ စီးတတ်ပါ၏၊ အိပ်ပျော်သော သူတို့၏နှုတ်
၁၀ ခမ်းသို့အမှတ်မထင်ရောက်တတ်ပါ၏။- ငါချစ်ရာ
သခင်သည်ငါ့ကိုဆိုင်တော်မူ၏၊ငါ့အလိုသို့လည်း
လိုက်တော်မူတတ်၏။
၁၁ ကြွလာတော်မူပါ၊ ငါ ချစ်ရာ သခင်၊ ကြွလာ
တော်မူပါ၊ တောအရပ်သို့ထွက်သွား၍ရွာတို့၌
၁၂ ညဉ့်ကိုလွန်စေကြကုန်အံ့။- နံနက်စောစောထ
၍ စပျစ်ဥယျာဉ်သို့ သွားကြကုန်အံ့၊ စပျစ်နွယ်
ပင် သန် သည် မ သန် သည် ကို ရှင်၊ အပွင့် များ
သည်မများသည်ကိုရှင်၊သလဲပင်ပွင့်သည်မပွင့်
သည်ကိုရှင်ကြည့်ရှုကြကုန်အံ့၊ထိုအရပ်၌ကျွန်
မ၏မေတ္တာကို ကိုယ်တော်၌ အပ်ပေးပါမည်။-
၁၃ အနုဆေးပင်တို့သည် မွှေးကြိုင်ကြပါ၏၊ ငါတို့
တံခါး နား မှာ ရှိ သော အ သီး မျိုး အ သစ် အ
ဟောင်းတို့ကို ကိုယ်တော် အဖို့ ကျွန်မ သိုထားပါ
ပြီ၊ငါချစ်ရာသခင်။

၈

၁ ကိုယ်တော်သည် ကျွန်မ၏ မိခင်နို့ကိုစို့သော
မောင်ရင်းကဲ့သို့ ဖြစ်စေချင်ပါ၏၊ သို့ဖြစ် လျှင်၊
ကျွန်မသည် ပြင်မှာတွေ့၍ နမ်းပါလိမ့်မည်၊ သူ
၂ တပါးမကဲ့ရဲ့ရ။- ကိုယ်တော်ကို ထက်ဆွဲ၍၊ မိ
ခင်၏ အိပ်ခန်းထဲသို့ ဆောင်သွားပါလိမ့်မည်၊
သူသည်လည်း ကျွန်မကိုသွန်သင်သဖြင့်၊ ကျွန်
မသည် ဆေးရောသော စပျစ်ရည်နှင့် ကျွန်မထ
ထဲရည်ကို ကိုယ်တော်အား သောက်စေ့ ရပါ
၃ စေမည်။- သခင်၏လက်ဝဲ လက်သည်ခေါင်းကို
ထောက်မလျက်၊ လက်ျာလက်သည် ငါ့ကိုဖက်
လျက်နေတော်မူပါစေ။
၄ ယေရုရှလင်မြို့ သမီးတို့၊ ငါချစ်သော သူကို ထိုး
သည် အလိုလို မနိုးမှီ ထိုင်အောင်၊ မရှုစ်မနှိုး
မည်အကြောင်း၊ တောဥက္ကောင်ထည်သောသမင်
ဗရယ် များ ကို ထိုင် တည် ၍ သင် တို့ ကို ငါ မှာ
ထား၏။
၅ မိမိချစ်ရာ သခင်၌ မှီ၍ တောထဲက ထ
သော ထိုသူ ကား၊ အဘယ်သူ ဖြစ်ပါ သနည်း မည်
နည်း။
ငါသည် ရှောက်ချိုပင် အောက်မှာ သင့်ကိုနှိုး
ဆော်ခဲ့ပြီ၊ ထိုအရပ်၌သင်၏ မိခင်သည်သင့်ကို
ပေးဖွားခဲ့ပြီ၊ ထိုအရပ်၌ သင့်ကို ဖွားမြင်သော
သူသည်သင့်ကိုပေးဖွားခဲ့ပြီ၊
၆ ကျွန်မကိုကိုယ်တော်၏နှစ်လုံးပေါ်မှာတံဆိပ်
ခတ်တော်မူပါ၊လက်ရုံးတော်ပေါ်မှာတံဆိပ်ခတ်
တော်မူပါ၊အကြောင်းမူကား၊မေတ္တာသည်သေ
ခြင်းနှင့် အမျှ တန်ခိုး ကြီးပါ၏၊ ခင်ပွန်းကို မထုံ
သော စိတ်သဘောသည် မရဏာ နိုင်ငံနှင့်အမျှ
ခက်ထန်ပါ၏၊ သူ၏အရှိန်သည် မီးအရှိန်၊လျှပ်
စစ်အရှိန်ဖြစ်ပါ၏။
၇ သို့ရာတွင်၊ ရေများတို့သည်မေတ္တာကိုမသတ်
နိုင်၊မြစ်ရေတို့သည်မလွှမ်းမိုးနိုင်၊လူသည်မိမိ
အိမ်၌ရှိသမျှသောပစ္စည်းဥစ္စာတို့ကိုမေတ္တာအို့
ပေးချင်သော်လည်း၊ အလွန်အရာ မထိခဲ့မြင်ရှု
ခြင်းကိုခံရလိမ့်မည်။
၈ ငါတို့၌ ညီမငယ်တယောက်ရှိ၏၊ ရင်သည်အ
မြွတ်မပေါ်သေး၊ ထိုညီမကိုတောင်းသောအခါ
၌၊သူ့အဖို့အဘယ်သို့ပြုရပါမည်နည်း။
၉ သူသည်မြို့ရိုးဖြစ်လျှင်၊သူ့အပေါ်မှာငွေပြအိုး
ကိုဆောက်မည်၊ တံခါးဖြစ်လျှင် အာရဇ်ပျဉ်
ပြားဖြင့်ပိုင်ခံ့စေမည်၊
၁၀ ငါသည်မြို့ရိုးဖြစ်၏၊ ငါ့ရင်သည်ပြအိုး
ကဲ့သို့ဖြစ်ကြ၏၊ သို့ဖြစ်၍ရှေ့တော်၌ရှုတ်နှာရ
သောကျေးဇူးရှိ၏။
၁၁ ဗာလဟာမုန်ပြည်၌ ရှောလမုန်မင်း၏ စပျစ်
ဥယျာဉ်တော်တခုရှိ၏၊ ဥယျာဉ် စောင့်ထိန်း၌ငှါး
ထားခြင်းသူတို့သည်အသီးကိုစားရသည်အတွက်
၁၂ ငွေတထောင်စီဆက်ရကြ၏။- ငါပိုင်သောစပျစ်
ဥယျာဉ်သည်ငါ့ရှေ့မှာရှိ၏၊အိုရှောလမုန်၊ ရှောလ

ဥယျာဉ်ကို ကိုယ်တော်အား ဆက်၍ အသီးကို
စောင့်သောသူတို့သည်နှစ်ရာကိုယူရကြ၏။
၁၃ ဥယျာဉ်တို့၌ နေသော သူ၊ သင်၏ စကားသံ
ကို သင်၏ အပေါင်း ဖော် တို့ သည် နား
ထောင်တတ်ကြ၏။ ငါသည်လည်းကြားပါရစေ။
၁၄ အလျှင် အမြန် ကြွ လာ တော် မူပါ။ ငါချစ်ရာ
သခင်၊ နံ့သာတောင်ပေါ်မှာသမင်ဒရယ်သငယ်
ကဲ့သို့ပြုတော်မူပါ။

ရှင်ရှောလမုန်သည်ခရစ်တော်နှင့်အသင်းတော်၏မေတ္တာကိုအကြောင်းပြု၍
စီရင်ရေးထားသောသီချင်းစာပြီး၏။

---

# ဟေရှာယအနာဂတ္တိကျမ်း။

## THE BOOK OF THE PROPHET ISAIAH.

၁

၁ ယုဒရှင်ဘုရင် ဩဇိမင်း၊ ယောသံမင်း၊ အာ
ခတ်မင်း၊ ဟေဇကိမင်း တို့ လက် ထက်၌၊ အာ
မုတ်၏ သား ဟေရှာယသည် ယေရုရှလင်မြို့မှစ
၍၊ ယုဒပြည်နှင့် ဆိုင်သော ဗျာဒိတ်တော်ကိုခံရ
၂ သည်မှာ၊- ထာဝရဘုရား မိန့်တော်မူသည်ဖြစ်
၍၊ မိုဃ်းကောင်းကင်၊ ကြားလော့။ မြေကြီး၊ နား
ထောင်လော့။ မိန့်တော်မူချက်ဟူမူကား၊ ငါကျွေး
မွေးပြုစုသောသားသမီးတို့သည် ငါ့ကိုပုန်ကန်ကြ
၃ ပြီ။- နွားသော်ထည်း၊ မိမိအရှင်ကိုသိ၏။ မြည်းသော်
ထည်း၊ မိမိသခင်၏ ခြင်းတောင်းကိုသိ၏။ ဣသရေလ
အမျိုးသားတို့မူကား၊ ငါ့ကို မသိကြ။ ငါ၏လူမျိုး
မူကား၊ မဆင်ခြင်တတ်ပါတကား။
၄ ဆိုး ယုတ်သော အမျိုး၊ ဒုစရိုက် ဝန်ကို ထမ်း
ရွက်သောလူစု၊ မတရားသောဖြင့်ပြုသောအနွယ်၊
ဖောက် ပြန်သော သားသမီး ပါတကား။ ထာဝရ
ဘုရားကို စွန့် ကြပြီ။ ဣသရေလ အမျိုး၏ သန့်
ရှင်း သော ဘုရားကို မရိုမသေ ပြု၍ ပယ် ကြပြီ။
၅ ကြောမှိုင်း၍ ခွာသွားကြပြီ။- သူတို့ကိုအဘယ်
ထိုးရိုက်ပေးရဦးမည်နည်း။ အဘယ်သို့ထပ်၍
ဒဏ်ခတ်ရဦးမည်နည်း။ ဦးခေါင်းသည် အနာသက်
သက်ရှိ၏။ နှလုံးသည်လည်း ခွန်အားအလျှင်း
၆ မရှိ။- ခြေဖဝါးမှသည် ဦးခေါင်းတိုင်အောင်
ကျန်းမာခြင်းမရှိ။ ဒဏ်ရာသောအနာ၊ ထိခိုက်၍
ရောင်သောအနာ၊ ထိပွန်းသောအနာ သက်သက်
ရှိ၏။ ထိုအနာများကိုမညှစ်မနယ်ရ။ အဝတ်နှင့်မ
၇ စည်းရ။ ဆေးဆီနှင့်မပျော့စေရသေး။- သင်
တို့ပြည်သည် လူဆိတ်ညံလျက်ရှိ၏။ သင်တို့မြို့
ရွာတို့ကို မီး လောင်ပြီ။ သင်တို့ မြေကို ထည်း၊ တ
ကျွန်းတနိုင်ငံသားတို့သည်၊ သင်တို့မျက်မှောက်
၌စားကြ၏။ ရန်သူဖျက်ပြီးသကဲ့သို့၊ လူဆိတ်ညံ
၈ လျက်ရှိ၏။- ဇိအုန်သတို့သမီးသည်လည်း၊ စပျစ်
ဥယျာဉ်၌တဲကဲ့သို့၎င်း၊ သခွားတောင်ယာ၌ထင်
စင်ကဲ့သို့၎င်း၊ ရန်သူဝိုင်းသော မြို့ကဲ့သို့၎င်း ကျန်
၉ ရစ်ထေ၏။- ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား သည် ငါတို့ ၌ အနည်း ငယ်မျှ ကြွင်းစေ
တော်မမူလျှင်၊ ငါတို့သည် သောဒုံမြို့ကဲ့သို့ ဖြစ်
၍ဂေါမောရမြို့နှင့်တူကြပြီ။
၁၀ သောဒုံမြို့ကို အစိုးရသော မင်းတို့၊ ထာဝရ
ဘုရား၏ နှုတ်ကပတ်တော်ကို ကြားကြလော့။
ဂေါမောရ မြို့ သားတို့၊ ငါတို့ဘုရားသခင် ၏
၁၁ တရားတော်ကိုနားထောင်ကြလော့။- ထာဝရ
ဘုရား မိန့် တော် မူသည် ကား၊ သင်တို့ ပူဇော်
သောယဇ်အများကို ငါသည် အဘယ်သို့ ဆိုင်
သနည်း။ မီးရှို့၍ပူဇော်သောသိုးကောင်၊ ဆူဖြိုး
အောင်ကျွေးသောတိရစ္ဆာန်တို့၏ ဆီဥနှင့်ငါဝ
ပြီ။ နွားနှင့်သိုးသငယ်၊ ဆိတ်တို့၏အသွေးကိုငါ
၁၂ မနှစ်သက်။- သင်တို့သည် ငါ့ရှေ့မှာ မျက်နှာပြ
ခြင်းငှါလာကြသောအခါ၊ တန်တိုင်းတော်ကို
ကျော်နင်းသော သင်တို့၌ ထိုသို့သောဝတ်ကိုအ
၁၃ ဘယ်သူ တောင်းသနည်း။- အချည်းနှီးသောပူ
ဇော်သက္ကာကို နောက်တဖန်မဆောင်ခဲ့ကြနှင့်။
သင်တို့မီးရှို့သောနံ့သာပေါင်းကိုငါရွံရှာ၏။ လ
ဆန်းနေ့၊ ဥပုသ်နေ့၊ ပရိသတ်စည်းဝေးဆော

ရာကိုထည်း၊ ငြိမ်ရှာ၏၊ အစဉ့ အစုနှင့် ရောနှော
သော စုဝေးခြင်း၊ ဝေးခြင်းထိုကို ထည်း မခံနိုင်။–
၁၄ လဆန်းသည် သင်တို့လဆန်းနေ့ များနှင့်၊ သင်
ထို ပွဲများကိုရွံ၏၊ ငကိုနှောင့်ရှက်စရာဖြစ်၏၊
၁၅ ထည်း ခံခြင်း၊ အား ဖြင့် ငါ ပင်ပန်း၏၊– သင်တို့
သည်လက်ဝါးတို့ကိုဖြန့်ကြသောအခါ၊ငါသည်
မျက်မိကိုလွှဲမည်၊ များ ပွားသောပဌနာကိုပြုကြ
သောအခါ၊ ငါသည်နား မထောင်၊ သင်တို့လက်
၁၆ ကိုသည်တသွေးနှင့်ပြည့်ကြ၏၊–ကိုယ်ကိုကိုယ်
ဆေးကြောကြလော့၊ ကိုယ်ကိုကိုယ် စင်ကြယ်
စေကြလော့၊ သင် တို့ ဒုစရိုက် များ ကို ငမျက်
မှောက်မှပယ်ရှားကြလော့၊ မကောင်းသော အ
၁၇ ကျင့်ကိုဖြတ်ကြလော့၊– ကောင်းသော အကျင့်
ကိုကျင့်တတ်သောငှါသင်ကြလော့၊ တရားသဖြင့်
ပြုခြင်းငှါရှာကြကြလော့၊ ကောက်သောအရာ
တို့ဖြောင့် စေကြလော့၊ မိဘ မရှိသောသူတို့အမှု
တရားသဖြင့်စီရင်ကြလော့၊ မုဆိုးမတို့၏အမှုကို
စောင့်ကြလော့၊
၁၈ ထာဝရဘုရား၏မိန့်တော်မူသည်ကား၊လာကြ၊
တရား စီရင်ကြကုန်အံ့၊ သင်တို့ အပြစ်သည်နီ
သောအဆင်း၊ ရှိသော်လည်း၊ မိုဃ်းပွင့် ကဲ့သို့ဖြူ
လိမ့်မည်၊ ကတ္တီပါနီနှင့်အမျှ နီသော်လည်း၊သိုး
၁၉ မွေးကဲ့သို့ဖြစ်လိမ့်မည်၊–သင်တို့သည်ကြည်ညို
နား ထောင် လျှင်၊ မြေအသီး အနှံ ကို စား ရကြ
၂၀ လိမ့်မည်။– သို့ မဟုတ်၊ ငြင်းဆန် ပုန်ကန် လျှင်
ထားထက်နက်ဖြင့် ဆုံးရကြ လိမ့်မည်ဟု၊ ထာ
ဝရဘုရား၏နှုတ်တော်ထွက်အမိန့်တော်ရှိ၏၊
၂၁ သစ္စာရှိသော မြို့သည် အဘယ် သို့ မှောက်မ
ထား ပြန်သနည်း။ အထက်က ဖြောင့်မတ်စွာစီ
ရင်ခြင်းနှင့်ပြည့်၏၊တရားသဖြင့်သူ၏အထဲမှာနေ
ရာကျ၏၊ယခုမူကား၊လူအသက်ကိုသတ်သော
၂၂ သူတို့သည် နေရာ ကျကြ ၏၊– သင်၏ ငွေသည်
ထည်း၊ ချေးဖြစ် ထေပြီ၊ သင်၏ စပျစ်ရည်သည်
၂၃ ရေနှင့်ရောလျက်ရှိ၏၊– သင်၏ မင်းတို့သည် ပုန်
ကန်ကြပြီ၊ သူခိုး ထက်ခံ ဖြစ်ကြပြီ၊ ထိုမင်းအ
ပေါင်းတို့သည်လက်ဆောင်ကိုအလိုရှိကြ၏၊တံ
မိုးကိုစားကြ၏၊ မိဘမရှိသောသူတို့အမှုတရား
မစီရင်ကြ၊မုဆိုးမအမှုကိုနားမထောင်ကြ၊
၂၄ ထိုကြောင့်၊ ဣသရေလ အရှင်၊ ဗိုလ်ခြေ သခင် အရှင်
သောဘုရား၊ ကောင်းကင် ဗိုလ်ခြေ သခင် အရှင်
ထာဝရဘုရား မိန့်တော်မူသည်ကား၊ အဲ၊ငါ
ရန်သူတို့၌ နေသောသူတို့ကိုပယ်ရှားပြီးမှ ငါချင်ငဲ့
ပြေမည်၊ကိုယ်အမှိုက်စောင့်၍ရန်သူတို့ကိုအ
၂၅ ပြစ်နှင့်အလျောက်စီရင်မည်၊–သင့်ကိုထည်းငါ
ကိုင်ထုပြီး၊လျှော်ချေးနှင့်ရှင်း၊ရှင်းကောင်းအောင်စစ်၍
သင်၏ကြေးဖြူမှိုသမျှကိုထည်း ပယ်ရှားမည်။–
၂၆ သင်၏တရားသူကြီးတို့နှင့် တိုင်ပင်ဖူးမတ်တို့ကို
ရှေးဦးစွာ ခန့်ထားသည့်နည်းတူ၊ တဖန် ငါခန့်
ထားဦးမည်၊ ထိုနောက်မှ၊သင်၏နာမကိုတရား
သောမြို့၊ သစ္စာစောင့်သောမြို့ဟုသမုတ်ကြလိမ့်
၂၇ မည်။– ဇိအုန်မြို့သည်တရားအားဖြင့်၎င်း၊မြို့သူ
မြို့သားတို့သည် ဖြောင့်မတ် သော အား ဖြင့်၎င်း၊
၂၈ ရွေးနှုတ်ခြင်းကို ခံရကြလိမ့် မည်။– ဖွန်ကျူး
သော သူနှင့် ပြစ် မှားသော သူတို့ သည် ပျက် စီး
ခြင်းသို့ အတူ ရောက်၍၊ ထာဝရဘုရားကို စွန့်
၂၉ သောသူတို့သည်ဆုံးရှုံး ကြလိမ့်မည်။– သင်တို့
သည် တပ်မက် ဘူး သော ထင်းရှားပင်တို့ ကြောင့်
ရှက်ကြလိမ့်မည်၊သင်တို့သည်ရွေးယူဘူးသော
၃၀ ဥယျာဉ်တို့ကြောင့်မျက်နှာပျက်ကြလိမ့်မည်။–အ
ကြောင်းမူကား၊ အရွက် နွမ်းသော ထင်းရှားပင်
ကဲ့သို့၎င်း၊ ရေမရှိသော ဥယျာဉ်ကဲ့သို့၎င်းဖြစ်ကြ
၃၁ လိမ့်မည်။– ခွန် အားကြီးသောသူသည်မီးဆန်
လျှော် ဖြစ်လျက်၊ သူ၏ အမှု သည် မီးပွား ဖြစ်
လျက်၊ ထိုနှစ်ပါး သည် အတူ လောင်ကြ လိမ့်
မည်၊ထိုမီးကိုအဘယ်သူမျှမသတ်ရ၊

၂

၁ ယုဒပြည်နှင့် ယေရုရှလင်မြို့ကို ရည်စေ၍၊
အာမုတ်၏သား ယေရှာယ ခံရသော ဗျာဒိတ်
၂ တော်အချက် ဟူမူကား၊– နောက်ဆုံးသောကာ
လ၌ ထာဝရ ဘုရား၏ အိမ် တော် တည်သော
တောင်သည် တောင်ကြီးတောင်ထိပ်တို့၏ ထိပ်
ပေါ်မှာ ခိုင်မြဲ၍ တည်လိမ့်မည်၊ ခပ်သိမ်း
သော လူမျိုးတို့သည် ထိုတောင်သို့ စည်းဝေးကြ
၃ လိမ့်မည်။–များပြားသောသူတို့က၊ထဝိုင်းသောကြ
လော့၊ ထာဝရဘုရား၏ တောင်တော်၊ ယာကုပ်
အမျိုး၏ ဘုရားသခင် အိမ်တော်သို့ တက်သွား
ကြကုန်အံ့၊ ထမ်းခရီးတော်တို့ကိုပြသွန်သင်
တော်မူ၍၊ငါတို့သည်ခြေတော်ရာသို့လိုက်သွား
ကြမည်ဟု၊ ခရီး သွား လျက် ပြော ဆိုကြလိမ့်
မည်၊တရားတော်သည်ဇိအုန်တောင်မှ၎င်း၊ထာ
ဝရဘုရား၏နှုတ်ကပတ်တော်သည်ယေရုရှလင်
၄ မြို့မှ၎င်း ပေါ်ထွက် လိမ့် မည်။– ထာဝရဘုရား
သည် လူမျိုးတို့ တွင် တရား စီရင်၍၊ များပြား
သော လူတို့ကို ဆုံးမ တော်မူ သဖြင့်၊ သူတို့ အား

ထက်နက် များကို ထွန်သွား ဖြစ်စေ ခြင်းငှါလည်း၊
လှံများကို တံစဉ် ဖြစ်စေခြင်းငှါလည်း ထုလုပ် ကြ
လိမ့်မည်။ တပြည်ကိုတပြည်စစ်မတိုက်၊ စစ်အ
တတ်ကိုလည်းနောက်တဖန်မသင်ရကြ။
၅ အို ယာကုပ် အမျိုး သားတို့၊ လာ ကြ လော့။
ထာဝရဘုရား၏ အလင်းတော်၌ ကျင်လည် ကြ
၆ ကုန်အံ့။- အကယ်စင်စစ်ကိုယ်တော်သည် ယာ
ကုပ် အမျိုးသားတည်းဟူသော၊ ကိုယ်တော်၏
လူတို့ကို စွန့်ပြစ်တော်မူပြီ။ အကြောင်းမူကား၊
သူတို့သည် အရှေ့ပြည် အတတ် နှင့် ကြွယ်ဝ၍၊
ဖိလိတ္တိလူတို့ကဲ့သို့အနာဂတ္တိဆရာဖြစ်ကြ၏။ တ
ပါး အမျိုးသားနှင့် အပေါင်းအဖော် ပြုကြ၏။-
၇ သူတို့ ပြည်သည် ရွှေ ငွေ နှင့် ကြွယ် ဝ ၍၊ ဥစ္စာ
ပစ္စည်း အတိုင်းမသိ များ၏။ သူတို့ ပြည် သည်
မြင်းနှင့် ကြွယ်ဝ၍၊ မြင်း ရထား အတိုင်း မသိ
၈ များ၏။-သူတို့ပြည်သည် ရုပ်တုဆင်းတုနှင့်ကြွယ်
ဝ၍၊ မိမိ လက်နှင့် လုပ် သော အ ရာ၊ မိမိ လက်
ချောင်း တို့နှင့် ဖန်ဆင်းသော အရာကိုပင်၊ သူတို့
၉ သည်ဦးချကြသည်တကား။- ထိုကြောင့်၊ယုတ်
သောသူလည်း၊ဦးနှိမ့်ခြင်း၊ မြတ်သောသူလည်း
ရှုတ်ချခြင်း ကို ခံရ လိမ့် မည်။ သူတို့ အပြစ်ကို
လည်းကိုယ်တော်သည်လွှတ်တော်မမူရာ။
၁၀ ထာဝရဘုရားသည် မြေကြီးကိုခြောက်လှန့်အံ့
သော ငှါ ထတော် မူသော ထို အခါ၊ ဘုရား ကို
ကြောက်ခြင်း အရှိန်၊ ဘုန်း တန်ခိုး အာနုဘော်
တော် အရှိန်ကြောင့် ကျောက် ထဲသို့ ဝင်လော့။
၁၁ မြေမှုန့်၌ ပုန်း၍ နေလော့။- ထိုကာလ၌ လူတို့၏
မော်သောမျက်နှာကိုနှိမ့်ရမည်။ လူတို့၏မာနကို
လည်း ရှုတ်ချရမည်။ ထာဝရဘုရားတပါးတည်း
သာ ချီး မြှောက် ခြင်း သို့ ရောက် တော် မူ လိမ့်
၁၂ မည်။-ကောင်းကင် ဗိုလ်ခြေအရှင်ထာဝရဘုရား
၏နေ့ရက်ကာလသည် ကြီးမြင့်သောအရာနှင့်မို
မောက်သော အရာရှိသမျှတို့ကိုဆီးတား၍၊ သူ
၁၃ တို့ သည် နှိမ့် ချ ခြင်း ရှိကြ လိမ့် မည်။- ကြီး မြင့်
သောလေဗနုန် အာရဇ်ပင်ရှိသမျှကိုလည်း၊ဗာရှန်
၁၄ သပိတ်ပင်ရှိသမျှကိုလည်း-မြင့်သောတောင်ရှိသမျှ
ကိုလည်း၊ မိုမောက်သော တောင်ပို့ ရှိသမျှကိုလည်း၊-
၁၅ မြင့်သော ရဲတိုက်ရှိသမျှကိုလည်း၊ ခိုင်ခံ့သောမြို့ရိုး
၁၆ ရှိ သမျှ ကိုလည်း၊- တာရှုသင်္ဘောအပေါင်း တို့ကို
လည်း၊ နှစ်သက် ဖွယ်သော ရုပ်ပါရုံ အလုံးစုံ တို့ကို
၁၇ လည်းဆီးတားလိမ့်မည်။-ထိုကာလ၌လူတို့၏မာန
ကို ရှုတ်ချ၍၊ လူတို့၏ စိတ်မြင့်သော သဘောကို

နှိမ့်ရမည်။ ထာဝရ ဘုရား တပါးတည်းသာ ချီး
၁၈ မြှောက်ခြင်းသို့ ရောက်တော် မူလိမ့်မည်။- ရုပ်
တု ဆင်းတုတို့သည် ရှင်းရှင်း ကွယ်ပျောက် ကြ
၁၉ လိမ့် မည်။- ထာဝရ ဘုရား သ ည် မြေ ကြီး ကို
ခြောက်လှန့်အံ့သောငှါထတော်မူသောအခါ၊ထို
ဘုရားကိုကြောက်ခြင်းအရှိန်၊ ဘုန်းတန်ခိုးအာ
နုဘော်တော်အရှိန်ကြောင့်လူတို့သည်ကျောက်
၂၀ တွင်း၊ မြေတွင်းထဲသို့ ဝင်ကြလိမ့်မည်။- ထိုကာ
လ၌ လူ တို့သည် မိမိတို့ကိုးကွယ် အံ့ မိမိတို့ လုပ်
အပ်သော ငွေရုပ်တု၊ ရွှေရုပ်တု တို့ကို ပွေးများ၊
၂၁ လင်းနို့များ၌ ပြစ်ထား ကြလိမ့်မည်။- ထာဝရ
ဘုရားသည် မြေကြီးကို ခြောက်လှန့် အံ့သောငှါ
ထတော်မူသောအခါ၊ထိုဘုရားကိုကြောက်ခြင်း
အရှိန်၊ ဘုန်း တန်ခိုး အာနုဘော် တော် အရှိန်
ကြောင့်ကျောက်တွင်း၊ ချောက်ကြားထဲသို့ ပြေး
၂၂ ဝင်ကြလိမ့်မည်။-နှာခေါင်းနှင့်အသက်ရှူတတ်
သော လူ သတ္တဝါကို မကိုး စား ကြ နှင့်။ ထိုသို့
သောသူကို အ ဘယ် သို့ ပမာဏ ပြု စရာ ရှိသ
နည်း။

၃

၁ အကြောင်း မူ ကား၊ ကောင်း ကင် ဗိုလ် ခြေ
သခင်၊ အရှင်ထာဝရဘုရားသည် ရိက္ခာ အထောက်
အပင့်နှင့်ရေအထောက်အပင့်ရှိသမျှမှစ၍၊ခပ်
သိမ်းသောအထောက်အပင့်တို့ကို ယေရုရှလင်
၂ မြို့နှင့် ယုဒပြည်မှ ပယ်ရှား တော် မူ၏။- တန်ခိုး
ကြီးသောသူ၊ စစ်တိုက် သောသူ၊ တရားသူကြီး၊
၃ ပရောဖက်၊ဗေဒင်တတ်၊အသက်ကြီးသူ၊-ဒွေး
သောက် ကြီး၊ အရာရှိ၊ တိုင်ပင် မှူး မတ်၊ လိမ္မာ
သတ္တိ ရှိသောသူ၊ လှတ် သတ္တိ ရှိ သော သူ တို့ကို
၄ ပယ်ရှားတော်မူ၏။- ထိုပြည်တွင် သူငယ် တို့ကို
မင်းအရာ၌ ခန့်ထား၍၊ နို့ စို့ သူငယ် တို့ သည်
၅ အုပ်စိုး ကြ လိမ့်မည်။- ပြည်သား တို့သည် တ
ယောက်ကိုတယောက်၊အိမ်နီးချင်းတယောက်
ကို တယောက် ညှဉ်းဆဲ ကြလိမ့်မည်။ သူငယ်
သည်အသက် ကြီးသူကိုလည်း၊ လူ ယုတ်သည်လူ
၆ မြတ်ကိုလည်းစော်ကားလိမ့်မည်။- ထိုကြောင့်၊ လူ
သည် ပေါက်ဖော်ချင်း ညီအစ်ကိုကို ကိုင်ဆွဲ၍၊
သင်၌အဝတ်ရှိသေး၏။ လာပါ။ အကျွန်ုပ်တို့အ
ပေါ်၌မင်းပြုပါ။အကျွန်ုပ်တို့ပြိုပျက်ရာကိုလည်း
၇ ပြုပြင်ပါဟုဆိုလျှင်-သူကလည်း၊ငါသည်ပြုပြင်
နိုင်သောသူမဟုတ်။ ငါ့အိမ်၌ရိက္ခာလည်းမရှိ။ အ
ဝတ်လည်းမရှိ။ ငါ့ကိုပြည်သားတို့အပေါ်မှာမင်း

မငြို ဟိစေခြင်းငှါ၊ အတည့်အလင်းပြောဆိုလိမ့်
၈ မည်။- ယေရုရှလင်မြို့ပြိုလဲလျက်၊ ယုဒပြည်ဆုံး
ရှုံးလျက်ရှိ၏၊ အကြောင်းမူကား၊ သူတို့စကား
နှင့်သူတို့အကျင့်တို့သည် ထာဝရဘုရား၏အထို
တော်နှင့်မညီ၊ဘုန်းကြီးသောမျက်မှောက်တော်ထိုကို
၉ ဆန့်ကျင်ဘက်ပြုကြ၏။- သူတို့မျက်နှာအနေအ
ထားသည် သူတို့တဖက်၌သက်သေခံ၏၊ မိမိတို့
ဒုစရိုက်ကိုမဖုံးကွယ်၊ သောဒုံမြို့သားကဲ့သို့ထင်ရှား
စွာပြုကြ၏၊ သူတို့ဝိညာဉ်၌ အမင်္ဂလာရှိ၏၊ အ
ကြောင်းမူကား၊ မကောင်းကျိုးကိုမိမိတို့၌ ဆပ်
၁၀ ပေးကြပြီ။- ဖြောင့်မတ်သောသူသည်မင်္ဂလာရှိ
၏ဟု၊ထိုသူအားပြောလော့၊ အကြောင်းမူကား၊
သူသည်မိမိအကျင့်တို့၏ အကျိုးကိုခံစားရလိမ့်
၁၁ မည်။- မတရားသောသူသည်အမင်္ဂလာရှိ၏၊ မ
ကောင်းသောအမှုနှင့်တွေ့လိမ့်မည်၊ အကြောင်း
မူကား၊ သူကျင့်သောအကျင့်တို့၏အပြစ်ကိုသူ၌
၁၂ ဆပ်ပေးရလိမ့်မည်။- ငါ၏လူများကိုကား၊ သူ
ငယ်တို့သည်ညှဉ်းဆဲကြ၏၊မိန်းမတို့သည်ထိန်း
အုပ်စိုးကြ၏၊ငါ၏လူများတို့၊သင်တို့အားထိန်း
ပြသော သူတို့သည် လမ်းလွဲစေကြ၏၊ သင်တို့
သွားသောလမ်းခရီးကိုလည်းဖျက်ကြ၏။
၁၃ ထာဝရဘုရားသည်မိမိအမှုကိုစောင့်ဆဲ့သော
ငှါထတော်မူ၏၊ မိမိလူတို့ကိုတရားစီရင်မည်ဟု
၁၄ အားထုတ်တော်မူ၏။- ထာဝရဘုရားသည် မိမိ
လူတို့တွင်၊ အသက်ကြီးသူတို့ကိုငှင်၊ မင်းတို့ကို
ငှင်တရားစီရင်ရာ၌ဆီးကြိုတော်မူမည်၊ သင်တို့
သည်ဥယျာဉ်တော်ကိုစားကြပြီ၊ဆင်းရဲသော
သူတို့၏ဥစ္စာကိုလုယူ၍၊မိမိတို့အိမ်၌သိုထားကြ
၁၅ ပြီ၊-ငါ၏လူတို့ကိုအဘယ်ကြောင့်နှိပ်စက်ကြသ
နည်း၊ ဆင်းရဲသားတို့၏ မျက်နှာကို အဘယ်
ကြောင့်ကြိတ်ကြသနည်းဟု၊ ကောင်းကင်ဗိုလ်
ခြေသခင်အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၆ တဖန် ထာဝရဘုရား မိန့်တော် မူသည်ကား၊
ဇိအုန်သတို့သမီးတို့သည် စိတ်မြင့်၍၊ မိမိထည်
ပင်းကိုပြလျက်၊မျက်စိလော်လည်လျက်၊ခြေချင်း
တန်ဆာမြည်လျက်၊ စိတ်စိတ် လှမ်း၍သွား၍ တတ်
၁၇ သောကြောင့်၊- ဘုရားရှင်သည်ဇိအုန်သတို့သမီး
တို့ကို ခေါင်းတုံး ဖြစ်စေတော်မူမည်၊ ထာဝရ
ဘုရားသည် သူတို့မှအဝတ်ကိုပယ်၍ အရှက်ခွဲ
၁၈ တော်မူမည်။- ထိုကာလ၌ ဘုရားရှင်သည်သူတို့
၁၉ ခြေချင်း၊ချည်ဦးထုပ်၊လဆန်းရုပ်လည်ဆွဲ၊- နား
၂၀ သန့်သီး၊ထက်ကောက်၊မျက်နှာဖုံး၊-ပေါင်းသရ
၂၁ ဖူ၊ ခြေကြိုး၊ ခါးပန်း၊ နှာခေါင်းဆူး၊- လက်
၂၂ စွပ်၊ ထက် စွပ်၊ နှာဆွဲ၊- ဘွဲ့ ရှာ အင်္ကျီ၊ တပတ်၊
၂၃ ခေါင်းချုံ၊ လွယ် အိတ်၊- ထွယ် မှန်၊ အထွန်း
အင်္ကျီ၊ဦးရစ်၊ တင်းတိမ်ထိုကို ပယ်ရှင်း တော်မူ
၂၄ မည်။- မွှေးသောအနံ့ အရာ၌ပုပ်စပ်သောအနံ့၊
ခါး စည်း အရာ၌ ခါးကြိုး၊ ကျစ် သော ဆံပင် အ
ရာ၌ ခေါင်း တုံးခြင်း၊ ရင်စည်းတန်ဆာအရာ၌
လျှော်တေကြိုး၊လှသောအဆင်းအရာ၌သံပူထိုး
၂၅ ရာ ဖြစ်ရလိမ့်မည်။-သင်၏လူတို့သည်ထား
ထက်နက်ဖြင့်ငှင်၊သင်၏သူရဲတို့သည်စစ်ထိုး
၂၆ ခြင်းငှင်သဲ၍ဆုံးရှုံးကြလိမ့်မည်၊-သူ၏တံခါး
တို့သည်ငိုကြွေးမြည်တမ်း၍၊

၄

၁ သူသည် ထု ဆိတ်ညံ့ရာ မြေပေါ်မှာ ထိုင်ရလိမ့်
မည်၊ ထိုကာလ၌ မိန်းမ ခုနစ် ယောက်တို့ သည်
ယောကျ်ားတယောက်ကို ကိုင်ဆွဲလျက်၊ ကျွန်မ
တို့သည်ကိုယ်ရိက္ခာကိုစားပါမည်၊ကိုယ်အဝတ်ကို
ထည်းဝတ်ပါမည်၊ကျွန်မတို့ကိုမောင်၏နာမဖြင့်
သ ရုတ်ခြင်းသာရှိစေ၍၊ ကျွန်မတို့ရှက်ကြောက်
ခြင်းကိုပယ် ဖျောက် ပါဟု ဆိုကြ လိမ့်မည်။
၂ ထို ကာလ၌ ထာဝရ ဘုရား၏ အ ညွန့် သည်
ဘုန်းအသရေ ပွင့်လန်းလိမ့်မည်၊ လွတ်သောဣ
သရေလ အမျိုးသား တို့ အဖို့၊ မြေ အသီး အနှံ
သည် ကောင်း မြတ် လျောက်ပတ် လိမ့် မည်။-
၃ ထာဝရ ဘုရားသည် တရားစီရင်သော ဝိညာဉ်၊
၄ မီးလောင်သောဝိညာဉ်တော်အားဖြင့်၊ဇိအုန်သ
တို့ သမီး တို့၏ အညစ် အကြေးကို ဆေး ကြော၍၊
ယေရု ရှလင်မြို့၏ အသွေးကို မြို့ထဲက ပယ် ရှား
တော်မူပြီးလျှင်၊ ဇိအုန်တောင်မှာကျန်ကြွင်း၍၊
ယေရုရှလင်မြို့၌ နေရစ်သောသူတည်းဟူသော၊
အသက် စာရင်း ဝင်သမျှသော ယေရု ရှလင်မြို့
သား တို့သည် သန့် ရှင်းခြင်း ရှိကြ လိမ့် မည်။-
၅ ထာဝရဘုရားသည်ထည်း၊ ဇိအုန်တောင်မှာရှိ
သမျှသော အိမ်များနှင့် စည်းဝေးရာပရိသတ်
များ၏အပေါ်တွင်၊ နေ့အချိန်၌ မိုဃ်းတိမ်နှင့် မီး
ခိုးကိုငှင်၊ညည့်အချိန်၌မီးလျှံအလင်းကိုငှင် စန့်
ထင်းတော်မူ၍၊ မြတ်သောအရာ အလုံးစုံတို့ကို
၆ လွှမ်းမိုးတော်မူလိမ့်မည်၊-နေ့အချိန်၌ထည်းအ
ပူကို ကွယ် ကာသောတဲ၊ မိုဃ်းသက် မုန်တိုင်း
ရောက်မှလုံချုံသောခိုလှုံရာဖြစ်လိမ့်မည်။

၅

၁ ငါ ချစ်ရာ သခင်၏ စပျစ် ဥယျာဉ်တော်ကို အ

ကြောင်းမြွက်၍၊ မေတ္တာသီချင်းကို ချစ်တော်၌ဆို
ပေအံ့၊ မြေကောင်းသောတောင်ပေါ်မှာငါချစ်ရာ
၂ သခင်၏စပျစ်ဥယျာဉ်တော်တခုရှိ၏။-မြေကိုတူး
၍ကျောက်ခဲတို့ကိုရှင်းထင်းစေပြီးမှ၊ အကောင်း
ဆုံးသောစပျစ်နွယ်ပင်တို့ကိုစိုက်ပျိုးတော်မူ၏၊
ဥယျာဉ်ထဲမှာ မျှော်စင်ကိုတည်၍ စပျစ်ရည်ကျင်းကိုလည်း ဆောက်
၍၊ စပျစ်သီး နယ်ရာ ကျင်းကိုလည်းတူးတော်မူ
၏။ ထိုအခါ စပျစ် သီးကို သီး မည် ဟု မျှော် လင့်
သည် ရှိ သော်၊ မော၁ရှ သီး ကို သီး ပါ သည် တ
၃ ကား။- ယခုမှာ ဆိုလုဇ ပြည်သူ၊ ယေရုရှလင်မြို့
သားတို့၊ ငါနှင့် စပျစ် ဥယျာဉ်အမှုကို စီရင်ကြ
၄ ပါလော့။- စပျစ် ဥယျာဉ်၌ ငါ ကျိုး ရှုး ပြု နိုင်
လျက်၊ မပြုသေးသောအရာ တစုံတခုရှိသလော၊
စပျစ်သီးကို သီးမည်ဟု မျှော်လင့်သည် ရှိသော်၊
၅ မော၁ရှသီးကိုအဘယ်ကြောင့်သီးသနည်း။- ယ
ခုနားထောင်ကြ၊ စပျစ်ဥယျာဉ်၌ ငါပြုရမည်အ
မှုကိုသင်တို့အား ငါဖော်ပြမည်၊ ခြံစည်းရိုးကို
ငါ ပယ်ရှင်း သဖြင့်၊ သူတပါး တို့သည် စားကြ
လိမ့်မည်၊ အုတ်မြို့းကိုငါဖြိုသဖြင့်၊ သူတပါးတို့
၆ သည် ကျော်နင်းကြ လိမ့်မည်။- ဥယျာဉ်ကို ငါ
ရှင်းရှင်းဖျက်ဆီးမည်၊ အဘယ်သူမျှ မပြုပြင်
ရ၊ အဘယ်သူမျှမတူးမဆွရ၊ ဆူးပင်အမျိုးမျိုး
ပေါက်ကြလိမ့်မည်၊ ထိုဥယျာဉ်အပေါ်မှာလည်း
၇ မိုဃ်းမရွာစေခြင်းငှါ ငါပညတ်မည်။- ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရား၏စပျစ်ဥယျာဉ်
ကား၊ ဣသရေလအမျိုးတည်း၊ နှစ်သက်တော်
မူသောပျိုးပင်ကား၊ ယုဒလူတည်း၊ တရားစီရင်
ခြင်းကို မျှော်လင့်တော်မူသည်ရှိသော်၊ အသေ
သတ်ခြင်းကိုငှင်၊ ဖြောင့်မတ်ခြင်းအရာ၌ညည်း
ညူကြွေးခြင်းကိုငှင်တွေ့မြင်တော်မူ၏။
၈ မိမိတို့သည်မြေ၏အလယ်၌ တစုတည်းနေရာ
ကျ၍၊ ထပ်သော အရပ်မရှိစေခြင်းငှါ၊ အိမ်တ
ဆောင်နှင့် တဆောင်ကိုငှင်၊ လယ် တကွက်နှင့်
တကွက်ကိုငှင်၊ ဆက်တတ်သောသူတို့သည် အ
၉ မင်္ဂလာရှိကြ၏။- ငါ၏ နားအပါး၌ ကောင်းကင်
ဗိုလ်ခြေအရှင် ထာဝရဘုရား မိန့်တော် မူသည်
ကား၊ အကယ်စင်စစ်ကြီးကျယ်တင့်တယ်သော
အိမ် အများတို့သည် နေသောသူမရှိ၊ လူဆိတ်
၁၀ ညံ့ရာ ဖြစ်ကြလိမ့်မည်။- အကြောင်းမူကား၊ စ
ပျစ်ဥယျာဉ်တပယ်သည် စပျစ်ရည်တဗတ်ကိုမျှ
သာ ဖြစ်စေမည်၊ မျိုးစေ့ ကိုလည်း ကြဲသောအ
ခါ၊ဆယ်ဖို့တွင်တဖို့ကိုမျှသာရကြလိမ့်မည်။

၁၁ သေရည် သေ ရက်ကို သောက် ခံ့သောငှါ၊ နံ
နက် စောစောထ၍ စပျစ်ရည် နှင့်ယစ်မူးခံ့သော
ငှါ၊ ညည့်ကိုလည်း လွန် စေ တတ် သော သူတို့
၁၂ သည် အမင်္ဂလာရှိကြ၏။- သူတို့၏ပွဲ၌ စောင်း၊
တယော၊ပတ်သာ၊ ပုလွေ၊ စပျစ်ရည်ပါတတ်၏၊
ထာဝရဘုရား၏အမှုတော်ကိုကား၊ ပမာဏမပြု
ကြ၊ လက်တော်နှင့် ပြုပြင်တော်မူရာကို မရိပ်မိ
၁၃ ကြ။- ထိုကြောင့်ငါ၏လူတို့သည်ပညာမရှိ၊ဖမ်း
ဆီးသိမ်းသွားခြင်းကိုခံရကြ၏၊မှူးမတ်တို့သည်
မွတ်သိပ်၍သေကြ၏၊ ဆင်းရဲသားတို့သည် ရေ
၁၄ ငတ်၍ ပူဆွေး လျက် ရှိကြ၏။- ထိုကြောင့်၊ မရ
ဏာနိုင်ငံသည် မိမိလောဘကိုကျယ်စေ၍၊ မိမိ
ပစပ်ကို အတိုင်း အရှည်မရှိဘဲဖွင့်ဟသဖြင့်၊သူ
တို့၏ ဂုဏ် အသရေအလုံးအရင်း၊ အသံဗလံပြု
ခြင်း၊ ရွှင်လန်းခြင်းတို့သည် ဆင်းမြုပ်ရကြ၏။-
၁၅ ယုတ်သော သူသည်း ဦးညွှတ်ခြင်း၊ မြတ်သောသူ
လည်း ရှုတ်ချခြင်းကိုခံရ၍၊ မာနကြီးသောသူတို့
၁၆ ၏ မျက်နှာ လည်း ပျက်ရ၏။- ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရားသည် တရားစီရင်ခြင်း
အားဖြင့် ချီးမြှောက်ခြင်းသို့ ရောက်တော်မူလိမ့်
မည်၊ သန့်ရှင်းတော် မူသော ဘုရားသခင်သည်
ဖြောင့်မတ်ခြင်းအားဖြင့်၊ သန့်ရှင်းခြင်း ရှိတော်
၁၇ မူလိမ့်မည်။-ထိုအခါ သိုးသငယ်တို့သည် အထို
အလျောက်ကျက် စားရကြလိမ့်မည်၊ သခွေးသူ
ကြွယ် ပိုင်ဘူး၍၊ လူဆိတ်ညံ့ရာ အရပ်၌ ထည်း
ဧည့်သည်တို့သည်စားရကြလိမ့်မည်။
ဒုက္ခကိုဒုစရိုက်ဖြင့်ဆွဲသောသူ၊ ဟှည်းကြိုးဖြင့်
ဆွဲသကဲ့သို့၊ အပြစ်ကို ဆွဲငင်သော သူတို့သည်
၁၉ အ မင်္ဂ လာ ရှိ ကြ၏။- သူ တို့ ကလည်း၊ ဘုရား
သခင်၏အမှုကိုငါတို့သည်မြင်ရမည့်အကြောင်း၊
အလျင်အမြန်ကြို၊ စားတော်မူပါစေ၊ ငါတို့သည်
သိနားလည် ရမည် အကြောင်း၊ ဣသရေလအ
မျိုး၏ သန့်ရှင်းသောဘုရား၏အကြံတော်သည်၊
အနီးသို့ချဉ်းရ၍ပြည့်စုံပါစေဟုဆိုတတ်ကြ၏။-
၂၀ မကောင်းကိုအကောင်း၊ အကောင်းကိုမကောင်း
ဟုခေါ်တတ်သောသူ၊ အလင်းအရာ၌အမိုက်၊ အ
မိုက်အရာ၌အလင်းကိုငှင်၊ အချိုအရာ၌အခါး၊
အခါးအရာ၌ အချိုကိုငှင်၊ အလွဲ ယူတတ်သော
သူတို့သည်အမင်္ဂလာရှိကြ၏။- ငါသည်ပညာရှိ
သည်ဟု၊ ကိုယ်ကိုထင်သောသူ၊ သမ္မာသတိနှင့်
ပြည့်စုံသည်ဟု၊ ထင်မှတ်သော သူတို့သည် အ
၂၁ မင်္ဂလာရှိကြ၏။- စပျစ်ရည်ကိုရှား စွာသောက်

နှိပ်သောသူ၊ အေးနှင့် ရောသော အေရည် အေ
ရက်ကို သောက်ခြင်းအမှု၌၊ အားကြီးသောသူ
၂၃ ထိုသည် အမင်္ဂလာ ရှိကြ၏။- ထိုသူတို့သည်တံ
မိုးကိုစားခြင်းငှါ၊ မတရားသောသူတို့ကိုအပြစ်
စေပ၊ ထဲ ဘွတ်၍ငှင် ခြောင့် မတ်သော သူ တို့၏
ခြောင့်မတ်ခြင်းကိုဝန်မခံ၊ပယ်ရှားတတ်ကြ၏။-
၂၄ ထိုကြောင့်၊ မီးလျှာသည် ကောက်ရိုးကိုလျှက်၊
မီးလျှံသည် မြက်ခြောက်ကိုကျွမ်းစေသည်နည်း
တူ၊သူတို့၏အမြစ်သည် ဆွေးမြေ့သောသစ်သား
ကဲ့သို့ ဖြစ်၍၊ အပွင့် သည် ထည်း မြေမှုန့် ကဲ့သို့
လွင့်တက်လိမ့်မည်၊အကြောင်းမူကား၊ ကောင်း
ကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏တရားတော်
ကို ပယ် ကြပြီ၊ ဣသရေလ အမျိုး၏ သန့် ရှင်း
သော ဘုရား၏ နှုတ် ကပတ် တော် ကို မ ထီမဲ့ မြင် ပြု
ကြပြီ။
၂၅ ထိုကြောင့်၊ ထာဝရဘုရားသည် မိမိလူတို့ကို
အမျက်တော်ထွက်လျက်၊ သူတို့၌လက်တော်ကို
ဆန့်၍ဒဏ်ခတ်တော်မူသဖြင့်၊ တောင်တို့သည်
တုန် လှုပ် ၍၊ သူတို့၏ အ သေ ကောင် တို့ သည်
ထမ်းမျှားရှမ်းမစင်ကဲ့သို့ဖြစ်ကြ၏၊ ဤသို့သော်လည်း
အမျက် တော် သ ည် မငြိမ်း၊ ထ တ် တော် သည်
၂၆ ဆန့်လျက် ရှိသေး၏။- ဝေးသောအရပ်မှာ နေ
သောလူမျိုးတို့အမှီ အထံကိုထူ၍၊ မြေကြီးစွန်း
သားတို့ကို နှိုးဆော်တော် မူသဖြင့်၊ သူတို့သည်
၂၇ အလျှင်အမြန်လာကြလိမ့်မည်။- သူတို့တွင်မောသော
သောသူမရှိ၊ ထိမိ၍လဲသောသူမရှိ၊ ငိုက်မျဉ်း
သောသူ၊အိပ်ပျော်သောသူလည်းမရှိ၊ သူတို့ခါး
၂၈ စည်းမပြေ၊ ခြေနင်းကြိုးလည်း မပြတ်။- သူတို့
မြှားတို့သည် ထက်ကြ၏၊ လေးတို့ သည်ထည်း
တင်လျက်ရှိကြ၏၊ မြင်းခွာတို့သည် မီးကျောက်
ကဲ့သို့၎င်း၊ ရထားဘီး တို့သည်ထည်း၊ လေဘွေ
၂၉ ကဲ့သို့၎င်းထင်ကြ၏။- သူတို့အသံဗလံသည် ခြင်
သေ့ ဟောက် သံ နှင့် တူ ၍၊ ခြင်္သေ့ပျို ကဲ့ သို့
ဟောက်ကြလိမ့်မည်၊ ဟောက်လျက်အကောင်
ကိုဖမ်း၍ဆောင်သွားကြလိမ့်မည်၊အဘယ်သူ
၃၀ မျှမကယ်မနှုတ်ရ။- ထိုကာလ၌သူတို့သည် သ
မုဒ္ဒရာအသံဗလံကဲ့သို့ တုန်းဟုန်းမြည်ကြလိမ့်
မည်၊ ထိုပြည်ကို ကြည့်ရှုလျှင်၊ မှောင်မိုက်အ
တိ၊ ရုက္ခဆင်းရဲ သက်သက်ရှိ၍၊ မိုဃ်းကောင်း
ကင်အထင်းသည်ကွယ်ပျောက်လိမ့်သတည်း။

၆

၁ ဩဇိမင်းကြီး အနိစ္စ ရောက်သော နှစ်တွင်၊
ထာဝရဘုရားသခင်အထွတ်မြင့်မြတ်သောပလ္လင်
ပေါ်မှာ ထိုင်တော်မူသည်ကို ငါမြင်၏၊ အဝတ်
တော်တန်ဆာသည် ဗိမာန်တော်ကို ပြည့်စေ
၂ ၏။- ကောင်းကင် တမန်သရပ်တို့ သည် ပလ္လင်
တော်အထက်တရှက်၌ရပ်နေကြ၏၊သူတို့သဗ္ဗအ
တောင်ခြောက်ခုစီရှိ၍၊အတောင်နှစ်ခုဖြင့်မျက်
နှာကိုဖုံးလျက်၊ အတောင်နှစ်ခုဖြင့်ခြေတို့ကိုဖုံး
၃ လျက်၊အတောင်နှစ်ခုဖြင့်ပျံတတ်ကြ၏။- သူတို့
ကလည်း၊ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ
ဘုရားသည်သန့်ရှင်းတော်မူ၏၊ သန့်ရှင်းတော်
မူ၏၊သန့်ရှင်းတော်မူ၏၊မြေကြီးလုံးသည်ဘုန်း
တော်နှင့် ပြည့်သေ၏ ဟု၊ တပါးကို တပါး ကျွေး
၄ ကြော်၍ မြွက်ဆိုကြ၏။-ထိုသို့သောကြွေးကြော်
သံကြောင့်၊ တံခါးတိုင်တို့သည်လှုပ်ရှား၍၊ အိမ်
၅ မိုးနှင့်တအိမ်လုံးပြည့်သေ၏။-ငါကလည်း၊ငါ၌
အမင်္ဂလာရှိ၏၊ငါအကျိုးနည်းရှိပြီ၊ အကြောင်း
မူကား၊ငါသည်ညစ်ညူးသောနှုတ်ခမ်းရှိလျက်၊
ညစ်ညူးသော နှုတ်ခမ်း ရှိသော လူ မျိုး တွင် နေ
လျက်နှင့်၊ ကောင်းကင် ဗိုလ်ခြေ အရှင်ထာဝရ
ဘုရားတည်းဟူသော၊ရှင်ဘုရင်ကိုကိုယ်မျက်စိ
၆ နှင့်မြင်သေပြီတကားဟုဆို၏။-ထိုအခါကောင်း
ကင်တမန်သရပ်တပါးသည်ယဇ်ပလ္လင်ပေါ်က
မီးညှပ်ဖြင့် ယူသော မီးခဲတခဲကို ယတ်နှင့် ကိုင်
၇ လျက်၊ ငါ ရှိရာသို့ ပျံလာ၍- ငါ့နှုတ်ကိုထို ပြီး
လျှင်၊ ဤမီးခဲသည် သင်၏ နှုတ်ခမ်းကို ထိပြီး
သင်၏ ဒုစရိုက်ကို သုတ် သင် ပြီ၊ သင်၏အပြစ်
ထည်းပြေရှင်းပြီဟုဆို၏။
၈ တစ်နေ့ ထာဝရဘုရားက၊ ငါသည် အဘယ်သူ
ကိုစေလွှတ်ရမည်နည်း၊ ငါတို့အမှီ အဘယ်သူ
သွားမည် နည်း ဟု မေး တော် မူသံကို ငါ ကြား
လျှင်၊ ငါက၊ အကျွန်ုပ် ရှိပါ၏၊ အကျွန်ုပ်ကို စေ
၉ လွှတ် တော် မူပါဟု လျှောက် သေ ၏။- ထာဝရ
ဘုရားကလည်း၊ထိုလူမျိုးရှိရာသို့သွားပြီးလျှင်၊
သင် တို့သည် ကြားလျှက်ပင်၊ အနက်ကို နားမ
လည်ဘဲကြားကြလိမ့်မည်၊မြင်လျက်ပင်၊ အာရုံမ
၁၀ ပြုဘဲမြင်ကြလိမ့်မည်ဟုပြောလော့။-သူတို့မျက်
စိမမြင်၊နားမကြား၊စိတ်နှလုံးမသိ၊ အကျင့်မ
ပြောင်းလဲ၊ သူတို့အနာရောဂါကို ငါမငြိမ်းစေရ
သည် တိုင်အောင်၊ သူတို့စိတ်နှလုံးကို မိုက်စေ
လော့၊ သူတို့နားကိုလည်းထိုင်းစေလော့၊သူတို့
၁၁ မျက်စိကိုထည်းမှိတ်စေလော့ဟုမိန့်တော်မူ၏။- ထို
ထာဝရဘုရား၊ အဘယ်မျှကာလပတ်လုံး ကြာ

ပါလိမ့်မည်နည်းဟု၊ ငါမေးလျှောက် ပြန်လျှင်၊
မြို့တို့သည်မြို့သားမရှိ၊အိမ်တို့သည်အိမ်သားမ
ရှိအောင်ဖျက်ဆီးခြင်းသို့ရောက်သဖြင့်၊တပြည်
လုံးသည်လူဆိတ်ညံ့ရာသက်သက်ဖြစ်သည့်တိုင်
၁၂ အောင်၎င်း၊- ထာဝရဘုရားသည် လူတို့ကို ဝေး
သောအရပ်သို့ပြောင်းစေတော်မူ၍၊ ပြည်ထဲမှာ
များစွာသော စွန့်ပြစ် ခြင်းရှိသည် တိုင် အောင်
၎င်း၊ ထိုကာလသည်ကြာလိမ့်မည်။- ထိုပြည်၌
ဆယ်မို့တွင် တမို့ကြွင်းသေးသော်လည်း၊ ထိုအ
ကြွင်းသည် အထပ်ထပ်ဖျက်ဆီးခြင်းကိုခံရလိမ့်
မည်။ သို့ရာတွင်၊ ထင်းရှူးပင်နှင့် သပိတ်ပင်တို့
ကိုခုတ်ဖြတ်၍၊ သစ်ငုတ်သည် ကြွင်းသကဲ့သို့၊
သန့်ရှင်းသော အနွယ်သည် ထိုပြည်၌ အငုတ်
ဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။

၇

၁ ယုဒရှင်ဘုရင်ဩဇိသားဖြစ်သော၊ယောသံ၏
သားအာခတ်မင်း ထက်ထက်၌၊ ရှုရိရှင် ဘုရင်
ရေဇိန်မင်းနှင့် ဣသရေလရှင်ဘုရင်ရေမလိမင်း
၏သား ပေကာမင်းတို့သည် ယေရုရှလင် မြို့ကို
တိုက်ခြင်းငှါချီလာကြ၏။ သို့သော်လည်း၊ အ
၂ ပြီးမမြောက် နိုင်ကြ။- ရှုရိပြည်သည် ဧဖရိမ်
ပြည်ကို အမှီပြုသည်ဟု၊ ဒါဝိဒ် မင်းမျိုးကြား
သောအခါ၊တော၌သစ်ပင်တို့သည်လေကြောင့်
လှုပ်ရှားသကဲ့သို့၊ မင်းကြီး၏ နှစ်လုံးနှင့် ပြည်
သားတို့၏နှစ်လုံးသည်တုန်လှုပ်လျက်ရှိကြ၏။
၃ ထိုအခါထာဝရဘုရားသည်ဟေရှာယကိုမိန့်
တော်မူသည်ကား၊ သင်သည် သင်၏ သား ရှာ
ယာရှုပ်နှင့်အတူသွား၍၊ခဝါသည်၏လယ်နား
မှာရှောက်သောထမ်း၊ အထက်ရေကန်မြောင်း၌
အာခတ် မင်းကို ကြိုဆို၍ တွေ့လျှင်၊ ဆင့်ဆိုရ
၄ မည်မှာ၊- သတိပြု၍ငြိမ်သက်စွာနေလော့။ မီး
ခိုးထွက်သော ဤထင်းစနှစ် ခုတည်း ဟူသော၊
ရှုရိမင်းရေဇိန်နှင့် ရေမလိ၏သားတို့သည် ပြင်း
စွာအမျက်ထွက်သော်ထည်း၊ မစိုးရိမ်နှင့်၊ စိတ်
မပျက်နှင့်။
၅ ရှုရိပြည်၊ဧဖရိမ်ပြည်၊ရေမလိသားတို့က၊ငါ
၆ တို့သည်ယုဒပြည်သို့သွား၍ နှောင့်ရှက်ကြကုန်
အံ့။တိုက်ယူ၍ပြည်အလယ်မှာတဗာလ၏သား
ကိုမင်းအရာ၌ ခန့်ထားကြကုန်အံ့ဟု၊ သင့်ထ
တော်၌ မကောင်းသော အကြံကို ကြံကြသော်
၇ ထည်း၊-ဘုရားရှင်ထာဝရဘုရားက၊ ထိုအကြံမ
၈ တည်ရ။ထိုသို့မဖြစ်ရ။- ရှုရိပြည်၏ခေါင်းကား၊
၉ ဒမာသက်မြို့။ ဒမာသက်မြို့၏ခေါင်းကားရေဇိန်
မင်းဖြစ်ရ၏။ ဧဖရိမ်ပြည်၏ခေါင်းကား၊ ရှမာရိ
မြို့၊ရှာမာရိမြို့၏ခေါင်းကား၊၊ ရေမလိသားဖြစ်ရ
၏။သို့သော်လည်း၊၊ခြောက်ဆယ်ငါးနှစ်အတွင်၊
တွင်၊ ဧဖရိမ်ပြည်ကိုပြည်မဖြစ်စေခြင်းငှါ၊ ရှိုး
ခွဲလိမ့်မည်။ သင်တို့သည် မယုံလျှင်၊ မတည်ရ
ကြဟုမိန့်တော်မူ၏။
၁၀ တဖန် ထာဝရဘုရားက၊ သင်၏ ဘုရားသခင်
ထာဝရဘုရားထံမှာနိမိတ် လက္ခဏာကိုတောင်း
၁၁ ပန်လော့၊- နက်သောအရပ်၌ဖြစ်စေ၊မြင့်သော
အထက် အရပ်၌ ဖြစ်စေ၊ တောင်း ပန် လော့ဟု၊
၁၂ အာခတ်မင်းကို မိန့်တော်မူလျှင်၊- အာခတ်မင်း
က၊ ကျွန်ုပ်မတောင်းပန်ပါ၊ ထာဝရဘုရားကိုမ
၁၃ စုံစမ်းပါဟုပြန်ပြော၏။-ထိုအခါဟေရှာယက၊
ဒါဝိဒ် အမျိုးသားတို့၊ နားထောင် ကြလော့။
သင်တို့သည်လူကိုငြီးငွေ့စေသည်သာမက၊ ငါ
ကိုးကွယ် သော ဘုရား သခင်ကို ငြီး ငွေ့ စေကြ
၁၄ မည် လော။- ထိုကြောင့်၊ ထာဝရဘုရား သည်
ကိုယ်တော်တိုင်နိမိတ်လက္ခဏာကိုသင်တို့အား
ပေးတော်မူမည်။ကြည့်ရှုလော့၊သတို့သမီးကညာ
သည်ပဋိသန္ဓေစွဲယူ၍၊ သားယောကျ်ားကိုဖွား
မြင်လတံ့။ ထိုသားကို ဧမာနွေလ အမည် မြင့်
၁၅ မှည့်ရလတံ့။- ထိုသူသည်မကောင်းသောအရာ
ကိုပယ်၍၊ ကောင်းသော အရာကို ရွေးယူတတ်
သည်တိုင်အောင်၊ နို့တမ်းနှင့်ပျားရည်ကိုစားရ
၁၆ လိမ့်မည်။-ထိုသူငယ်သည်မကောင်းသောအရာ
ကိုမပယ်၊ကောင်းသောအရာကိုမရွေးမယူတတ်
မှီ၊ သင်ကြောက်သော ရှင်ဘုရင် နှစ်ဦး အစိုးရ
သောပြည်သည် စွန့်ပြစ်သော အရပ် ဖြစ် လိမ့်
မည်။
၁၇ ဧဖရိမ် အမျိုးသည် ယုဒ အမျိုးနှင့် ကွာသွား
သောနေ့မှစ၍၊မဖြစ်ဘူးသောနေ့ရက်ကာလကို၊
ထာဝရဘုရားသည် သင်၏အပေါ်၌၎င်း၊ သင်၏
လူများအပေါ်၌၎င်း၊ သင်၏အမျိုးရင်းအပေါ်၌
၁၈ ၎င်းရောက်စေတော်မူမည်။-ထိုကာလ၌အဲဂုတ္တု
မြစ်လက်ကြားတို့အနားမှာ ရှိသောယင်ကောင်
ကို၎င်း၊အာရှုရိပြည်၌ရှိသောပျားကောင်ကို၎င်း
၁၉ နှိုးဆော်တော် မူသဖြင့်၊- သူတို့သည်လာ၍လူ
ဆိတ်ညံ့သောချိုင့်များ၊ချောက်ကြား၊ တောဆူး၊
ကျက်စားရာ များအပေါ် မှာ အကုန်အစင်နားအ
၂၀ ကြလိမ့်မည်။- ထိုကာလတွင်မြစ်ကြီး တစ်ဘက်၌
နေသောသူ၊ အာရှုရိ ရှင်ဘုရင်တည်းဟူသော

ငှါးသော သင်တုန်းဖြင့် ထာဝရဘုရားသည် ဆံ
ပင်နှင့် ခြေမွေးကိုရိတ်တော် မူမည်။ မုတ်ဆိတ်ကို
၂၀ လည်း ပယ်ရှင်း တော် မူမည်။- ထိုကာလ၌ လူ
သည် နွားမ က လေး တကောင်၊ သိုး ဆိတ် နှစ်
၂၁ ကောင်ကိုမွေးစားလျှင်၊-သူတို့၌များစွာသော နို့
ကိုရသဖြင့် နို့တမ်းကိုစားရ၏။ပြည်၌ကျန်ကြွင်း
သမျှသော သူတို့သည်ထောပတ်နှင့်ပျားရည်ကို
၂၂ သာစားရကြလိမ့်မည်။- ထိုအခါစပျစ်နွယ်ပင်
တထောင်ရှိ၍၊ ငွေတထောင် အဘိုး ထိုက်သော
စပျစ်ဥယျာဉ်တိုင်း၊ ဆူးပင်မျိုးသက်သက် ဖြစ်ရ
၂၃ လိမ့်မည်။- လေး နှင့်မြားကိုဆောင်လျက်ထိုအ
ရပ်သို့သွားကြလိမ့်မည်။မြေတပြင်လုံး၌ဆူးပင်
၂၄ မျိုးသက်သက်ဖြစ်ရလိမ့်မည်။- ပေါက်တူးနှင့်
တူးဆွရာတောင်ယာရှိသမျှတို့သည်၊ဆူးပင်မျိုး
ကြောင့်အထယ်သူမျှမချဉ်းဝံ့သဖြင့်၊နွားလွှတ်
၍ကျက်စားရာ၊ သိုး ဆိတ်တို့ကျော်နင်းရာဖြစ်ရ
ကြလိမ့်မည်ဟုဟောသတည်း။

၈

၁ ထိုနောက်ထာဝရဘုရားက၊ သင်သည်ကြီးသော
ကျောက်သင်ပုန်းကိုယူပြီးလျှင်၊ အသေးလုရက်
မြန်မြန် ဖျက်လေဟု ဆိုလိုသော၊ မဟေရရှာ
လလတာရှဗတ်ဟူသော အက္ခရာစာလုံးကို လူ
ထားသော အားဖြင့်ရေးထားလေဟု၊ ငါ့အားမိန့်
၂ တော်မူ၏။-ထိုအခါသက်သေခံစေခြင်းအလို့ငှါ၊
ယုံလောက်သော သက် သေ၊ ယဇ် ပုရောဟိတ်
ဥရိယနှင့် ယေဗရခိ၏သားဇာခရိတို့ကိုငါခေါ်
၃ ထား၏။-ထိုနောက်မှငါသည်ပရောဖက်ကတော်
ကိုချဉ်းသဖြင့်၊ သူသည်ပဋိသန္ဓေစွဲယူ၍သား
ယောက်ျားကို ဖွားမြင်လေ၏။ ထာဝရဘုရားက
လည်း၊ ထိုသားကိုမဟေရရှာလလတာရှဗတ်
၄ ဟူ သော အမည် ဖြင့် မှည့် လေ၊- အကြောင်း
မူကား၊ထိုသူငယ်သည်အမိ၊အဖဟုမခေါ်တတ်
မှီ၊ ဒမာသက်မြို့၏စည်းစိမ်၊ ရှမာရိမြို့၌လုရက်
သောဥစ္စာကိုအာရှုရိရှင်ဘုရင်သည်သိမ်းသွား
လိမ့်မည်ဟုမိန့်တော်မူ၏။
၅ တဖန်ထာဝရဘုရားက၊ ဤလူမျိုးသည်ဖြည်း
၆ ညှင်းစွာ စီးသော ရှိလောင် ချောင်းကို ငြင်း ပယ်
၍၊ ရေဇိန်နှင့်ရေမလိသားတို့၌ ဝမ်းမြောက်ကြ
၇ သောကြောင့်၊- ထာဝရဘုရား သည် အလုံးအ
ရင်းပါသောအာရှုရိရှင်ဘုရင်တည်း ဟူသော၊
ခွန်အားဗလကြီး၍ များသောမြစ်ရေနှင့် သူတို့
ကိုလွှမ်းမိုး စေတော် မူသဖြင့်၊ ထိုမြစ်သည် မိမိ
ချောင်း များကို လွှမ်း၍၊ မိမိ ကမ်း များကို လျှံ
၈ လျက်၊- ယုဒပြည်ကို ချင်းနင်းလွှမ်းမိုးဖြန့်သွား
၍၊ လည်ပင်း တိုင်အောင် မီလိမ့်မည်။ သူ၏အ
တောင် ထိုကိုလည်း ဖြန့် သဖြင့်၊ ကိုယ် တော်၏
မြေ တပြင်လုံးကို ဖုံးမိုးလိမ့်မည်၊ ဖို့ဧမာနွေ
လဟုမိန့်တော်မူ၏။
၉ အချင်းလူများတို့၊သင်းခွဲ၍မှိုင်တွေကြလော့။
ဝေးသောပြည်သားအပေါင်းတို့၊နားထောင်ကြ
လော့။ခါးစည်း၍မှိုင်တွေကြလော့၊ ခါးစည်း၍
၁၀ မှိုင်တွေကြလော့။- တိုင်ပင်ကြလော့၊သင်တို့အ
ကြံသည် ပျက်လိမ့်မည်။ စီရင်ကြလော့၊ စီရင်
သည် အတိုင်း မတည်ရ၊ အကြောင်း မူကား
ဘုရားသခင်သည်ငါတို့ထတ်၌ ရှိတော်မူ၏။
၁၁ ဤလူမျိုး၏အသွားလာ ကျင့်အတိုင်း၊ ငါမကျင့်ရ
မည်အကြောင်း၊ ထာဝရဘုရားသည်တန်ခိုးဖြ
လျက်၊ ငါ့ကိုသွန်သင်၍မိန့်တော်မူသည် ကား၊-
၁၂ သင်းခွဲခြင်းဟု၊ ဤလူမျိုးဆိုသမျှအတိုင်း၊ သင်
တို့သည် သင်း ခွဲ ခြင်း ဟု မဆို ကြ နှင့်။ သူတို့
ကြောက်တတ်သောအရာကို မကြောက်ကြနှင့်။
၁၃ မထိတ်လန့်ကြနှင့်။-ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရ ဘုရား ကို မိုးသော ခြင်း ရှိကြ လော့။ ထို
ဘုရားကိုသာကြောက်ရွံ့ခြင်း၊ထိတ်လန့်ခြင်းရှိ
၁၄ ကြလော့။-ထိုသို့ပြုလျှင်၊ထိုဘုရားသည်သင်တို့
ခိုလှုံရာ ဖြစ်တော်မူလိမ့်မည်။ သို့ရာတွင်၊ ဣသ
ရေလလူနှစ်မျိုးတို့ထိမိ၍လဲစရာကျောက်၊ ပြစ်မှား
ယွင်း စရာ ကျောက် ယေရု ရှလင် မြို့သား တို့၌
ကျော့ကွင်းနှင့် ထောင်ချောက် ဖြစ်တော် မူလိမ့်
၁၅ မည်။-ထိုသူအများတို့သည်ထိမိ၍တိမ်းလဲကျိုး
ပဲ့ခြင်း၊ ကျော့မိဖမ်းဆီးခြင်းသို့ ရောက်ကြလိမ့်
၁၆ မည်။- ဤသက်သေခံချက်ကို တေပည့် တို့တွင်
ထုပ်ထား၍၊ ပညတ်တရားကိုတံဆိပ်ခတ်လော့
၁၇ ဟုမိန့်တော်မူ၏။- ယာကုပ်အမျိုးသားတို့တွင်
မျက်နှာ တော်ကို ကွယ်ထား တော် မူသော ထာ
ဝရဘုရား ကို ငါသည် ဆိုင်း၍ မျှော်လျက် နေ
၁၈ မည်။-ငါမှစ၍ငါ့အားထာဝရဘုရားပေးတော်မူ
သောသူငယ်တို့သည်ဇိအုန်တောင်ပေါ်
မှာကျိန်းဝပ်တော် မူသောကောင်းကင် ဗိုလ်ခြေ
အရှင်ထာဝရဘုရား ထံတော်က၊ ဣသရေလအ
မျိုး၌ ပုပ္ပ နိမိတ် နှင့် ထူးဆန်း သော အရာ ဖြစ်စေ
၁၉ ခြင်းငှါ၊ပေးတော်မူသတည်း။- ထိုးထိုးပြော၍
မန္တန်သရဇ္ဈာယ်တတ်သောနတ်ဝင်နှင့် စုန်းတို့
၌ ဆည်းကပ်ကြလော့ဟု၊ သင်တို့အား ဆိုလျှင်

မှုထား၊ ထုတို့သည်မိမိတို့ဘုရားသခင်၌မမေးရ
ထိ်မေ်ထထေား၊ အသက်ရှင်သော သူ၏ အမှု
မှာ အသက် သေသောသူ၌ မေးကပ် မေ်သ
၂၀ ထေား- တရားတော်ကိုငှင်၊သက်သေခံတော်မူ
မှတ်ကိုငှင်နားထောင်ကြကုန်၊ သူတို့ပြောသော
စကားသည်နှုတ်ကပတ်တော်နှင့်မညီလျှင်၊ သူ
၂၁ တို့၌ အာရုဏ်မတက်သေး။- ပင်ပန်းခြင်း နှင့်
မွတ်သိပ် ခြင်းကို ခံလျက် လွန် သွားရကြ လိမ့်
မည်၊ မွတ်သိပ်သောအခါထည်းကိုယ်ကိုကိုယ်
နှောင့်ရှက်၍၊ မိမိတို့ရှင်ဘုရင်နှင့်မိမိတို့ဘုရား
၂၂ သခင်ကိုကျိန်ဆဲကြလိမ့်မည်၊-အထက်သို့မျှော်
သည် ဖြစ်စေ၊ မြေကြီးကို ကြည့်သည် ဖြစ်စေ၊
ရက္ခဆင်းရဲနှင့်မှောင်မိုက်အတိမှိုင်ပါ၏၊ ထူထပ်
သော မှောင် မိုက် နှင့် တွေ့ ၍၊ အထင်း ကွယ်
ပျောက်ရာသို့နှင်ထုတ်ခြင်းကိုခံရကြလိမ့်မည်။

၉

၁ ထိုသော်ထည်း၊ ရက္ခဆင်းရဲခြင်းကို ခံရသော
ပြည်သည် နောက်မှ မှောင်မိုက် နှင့် ကင်း လွတ်
လိမ့်မည်၊ ဇာဗုလုန်ခရိုင်နှင့်နဿလိခရိုင်ကိုအ
ထက်ကရှုတ်ချတော် မူသော်လည်း၊ နောက်တ
ခန်ဆိုင်နားရှောက်သောထမ်း၊ ယော်ဒန်မြစ်တ
ဖက်၊ တပါးအမျိုးသားနေရာ ဂါလိလဲပြည်ကို
၂ ဂုဏ်အသရေနှင့်ပြည့်စုံစေတော်မူ၏။- မှောင်
မိုက်ထဲမှာ သွားလာသော လူများ တို့သည်ကြီး
မြတ်သောအလင်းကို မြင်ရ၍၊ သေမင်း၏နိုင်ငံအ
ရိပ်တွင်မှီနေသောသူတို့၌အလင်းပေါ်ထွန်းလျှက်
၃ မှီ၏- ကိုယ်တော် သည် အမျိုးသားတို့ကို များ
ပြားစေ၍၊ သူတို့၏ဝမ်းမြောက် ခြင်းကိုတိုးပွား
စေတော်မူ၏၊ စပါးကို စုသိမ်းရာ ကာလ၌ဝမ်း
မြောက်သကဲ့သို့၎င်း၊လုယူသောဥစ္စာကိုဝေသော
သူဝမ်း မြောက် သကဲ့သို့ ၎င်း၊ ရှေ့တော်၌ သူတို့
၄ သည်ဝမ်းမြောက်ကြပါ၏-အကြောင်းမူကား၊
မိဒျန်ထက်ထက်၌ပြုတော်မူသကဲ့သို့၊ကိုယ်တော်
သည် သူတို့ထမ်းရသော ထမ်းဆိုး၊ ကြော၌ခံရ
သောရိုက်ကိုင်း၊ ညှဉ်းဆဲသော သူ၏ လှံတံကို
၅ ချိုးဖျက်တော်မူပြီ။-စစ်တိုက်သောသူရဲ၏ခြေစွပ်
နှင့်အသွေးလူးသော အဝတ်တန်ဆာ ရှိသမျှတို့
၆ သည် မီးရှို့၊ မီးစာဖြစ် ရ ကြလိမ့်မည်။- အ
ကြောင်း မူကား၊ ငါတို့အဘို့ သူငယ်ကိုဖွားမြင်
၏၊ ငါတို့အား သားကို သနားတော်မူ၏၊ ထိုသူ
သည်ဇာစ်မိုးခြင်းအာဏာစက်ရှိလိမ့်မည်၊နာမ
တော်မူကား၊အံ့ဩဘွယ်၊တိုင်ပင်ဖက်၊တန်ခိုး
ကြီးသော ဘုရားသခင်၊ ထာဝရအဘ၊ ငြိမ်သက်
ခြင်းအရှင်ဟူ၍ ခေါ်ဝေါ်ထ ရတ်ခြင်းကိုခံတော်
၇ မူလိမ့်မည်။-ဒါဝိဒ်မင်း၏ရာဇပလ္လင်ပေါ်မှာထိုင်
၍၊ နိုင်ငံတော်ကို နောင်ကာလ အစဉ် မပြတ်၊
တရားတော်အတိုင်း ခြောင့်မတ်စွာစီရင်၍အမြဲ
တည်စေတော်မူမည်အကြောင်း၊အာဏာတော်
တိုးတက်ခြင်းနှင့်၊ ငြိမ်သက်တော် မူခြင်းသည်
နိဂုံး အဆုံးမရှိလိမ့်မည်၊ ကောင်းကင် ဗိုလ်ခြေအ
ရှင် ထာဝရ ဘုရားသည် အလိုတော် အားကြီး
၍၊ထိုအမှုကိုပြီးစီးစေတော်မူလိမ့်မည်။
၈ ထာဝရဘုရားသည်ယာကုပ်တော်ကိုထာကုပ်
အမျိုးသို့လွှတ်၍၊ ဣသရေလ အမျိုး အပေါ် မှာ
၉ သက်ရောက် စေ တော် မူ၏။- ဇာတ်မိုး ပြုသော်
၁၀ လည်း၊ဆစ်ထောကျောက် နှင့်တည်ပြန်မည်၊သ
ဖန်းပင်များကို ခုတ်လှဲသော်ထည်း၊ သူတို့
အရာ၌အာရဇ်ပင်များကိုစိုက်ထားမည်ဟု၊ မာ
န ကြီးမား ထောင်လွှား သော ရှမာရိ မြို့သား မှ
စ၍၊ ဧဖရိမ် လူအပေါင်းတို့သည် သိရကြလိမ့်
၁၁ မည်။- ထာဝရ ဘုရားသည်လည်း၊ထိုသူတို့တ
ဖက်၌ ရေဇိန် မင်း၏ ရန်သူတို့ကို ချီးမြှောက်၍၊
ဧဖရိမ်အမျိုး၏ရန်သူတို့ကိုထစေတော်မူသဖြင့်-
၁၂ ရှေ့၌ကား၊ရှုရိလူ၊ နောက်၌ကား ဖိလိတ္တိလူတို့
သည် ပစပ်ထ၍၊ ဣသရေလ အမျိုး ကို ကိုက်
စားကြလိမ့်မည်၊ သို့သော်ထည်း၊အမျက်တော်
သည် မငြိမ်း၊ လက်တော် သည် ဆန့် လျက် ရှိ
သေး၏။
၁၃ ဤလူမျိုးသည် ဒဏ်ခတ်တော်မူသော သူထံ
သို့မလှည့် မပြန်၊ ကောင်းကင် ဗိုလ်ခြေ အရှင်
၁၄ ထာဝရဘုရားကိုမရှာမဖွေတတ်။- ထိုကြောင့်၊
ထာဝရဘုရားသည်ဣသရေလအမျိုးမှဥက္ကောင်း
နှင့်အမြီးကို၎င်း၊ စွန်ပလွံ ထက်နှင့် ကိုင်းပင်ကို
၎င်း၊တနေ့ချင်းတွင် ခုတ်ဖြတ်တော်မူလိမ့်မည်။-
၁၅ ဥက္ကောင်းကား၊အသက်ကြီးသူနှင့်အသရေရှိသူ
တည်း၊ အမြီးကား၊မုသာကိုဟောပြောသောပ
၁၆ ရောဖက်တည်း။- ဤလူမျိုးကို လမ်းပြသောသူ
တို့သည်ထမ်းလွဲစေခြင်း၄ါပြုကြ၏၊လိုက်သော
သူတို့ သည်လည်း၊ ပျက်စီး ခြင်းသို့ ရောက်ကြ
၁၇ လိမ့်မည်။- ထိုကြောင့်၊ ထာဝရဘုရားသည်သူ
တို့တွင်ရှိသောလုပျိုတို့ကိုအားရတော်မမူ၊ မိဘ
မရှိသောသူငယ်နှင့် မုဆိုးမတို့ကိုသနားတော်မ
မူ၊ထိုသူအပေါင်းတို့သည်အဓမ္မပြုသောသူ၊ဆိုး
ညစ် သော သူ ဖြစ်၍၊ မတရား သော စကားကို

ပြောတတ်ကြ၏၊ သို့ဖြစ်၍၊ အမျက်တော်သည်မ
ငြိမ်း၊ လက်တော်သည် ဆန့်လျက်ရှိသေး၏။
၁၈ အဓမ္မသည်မီးကဲ့သို့လောင်တတ်၏၊ ဆူးပင်အ
မျိုးမျိုးကိုကျွမ်းစေမည်။ တောအုပ်ကိုလည်းမီး
ရှို့သဖြင့်၊ အပင်တို့သည် မီးခိုးနှင့်တကွလွင့်တတ်
၁၉ ကြလိမ့်မည်။- ကောင်းကင်ဗိုလ်ခြေ အရှင်ထာ
ဝရဘုရား၏အမျက်တော်ကြောင့်၊ မြေသည်မီး
လောင်၍၊ မြေသားတို့သည်မီးစွဲဖွယ်ထင်းဖြစ်
ကြလိမ့်မည်။ ညီအစ်ကိုချင်း တယောက်ကိုတ
၂၀ ယောက်မနှစ်မြောရ။- လက်ျာဘက်၌ ရုတ်ဖြတ်
သော်လည်း၊ ငတ်မွတ်လိမ့်မည်။ လက်ဝဲဘက်၌
ကိုက်စားသော်လည်းမဝရ၊ အိမ်နီးချင်းအသား
၂၁ ကိုလူတိုင်း ကိုက်စား ရလိမ့်မည်။- မနာရှေအ
မျိုးသည် ဧဖရိမ်အမျိုးကိုင်၊ ဧဖရိမ်အမျိုး
သည် မနာရှေအမျိုးကိုင် ကိုက်စားကြလိမ့်
မည်။ ထိုနှစ်မျိုးတို့သည် ယုဒအမျိုးကိုတညီတ
ညွတ်တည်းရန်ပြုကြလိမ့်မည်။ သို့သော်လည်း၊
အမျက်တော်သည် မငြိမ်း၊ လက်တော်သည်
ဆန့်လျက်ရှိသေး၏။

၁၀

၁ ငတ်မွတ်သော သူတို့ကို တရားရှုံးစေခြင်းငှါ
၂ ၎င်း၊- ငါ၏လူမျိုးတွင် ဆင်းရဲသားတို့၏အခွင့်အ
ရာကိုရုပ်သိမ်းခြင်းငှါ၎င်း၊ မုဆိုးမတို့ကို လုဥ်း
ဆဲ၍၊ မိဘမရှိသောသူတို့၏ ဥစ္စာကို လုယူခြင်း
ငှါ၎င်း၊ မတရားသဖြင့်စီရင်သောသူ၊ ကြပ်တည်း
စွာသော မှတ်ချက်ကို မှတ်သားသော စာရေးတို့
၃ သည်အမင်္ဂလာရှိကြ၏။- ငါကြည့်ရှုစီရင်သည်
ကာလ၊ အဝေးကရောက်လာတတ်သော ဖျက်ဆီး
ခြင်းဖြစ်သည်ကာလ၌၊ သင်တို့သည်ချမ်းသာရ
အံ့သောငှါ၊ အဘယ်သူထံသို့ ပြေးကြလိမ့်မည်
နည်း။ သင်တို့စည်းစိမ် ဥစ္စာကို အဘယ်မှာသို
၄ ထားကြလိမ့်မည်နည်း။- ကျေးဇူးကို မခံရ
သောသူတို့သည်၊ ချုပ်ထားလျက်ရှိသောသူတို့
အောက်မှာ ဦးချရကြလိမ့်မည်။ အသေသတ်
ခြင်းကိုခံရသော သူတို့အောက်မှာ လဲရကြလိမ့်
မည်။ သို့သော်လည်း၊ အမျက်တော်သည် မ
ငြိမ်း၊ လက်တော်သည်ဆန့်လျက်ရှိသေး၏။
၅ အာရှုရိလူသည်အမင်္ဂလာရှိ၏။ ငါ့အမျက်၏လှံ
တံဖြစ်၏။ သူကိုင်သော တောင်ဝေးသည် ငါ
၆ ၏ဒေါသ ပေးစရာဘို့ဖြစ်၏။- အဓမ္မလူမျိုး ရှိရာသို့
သူကိုငါစေလွှတ်မည်။ ငါ့အမျက်ခံရသော လူစုကိုလု
ယူဖျက်ဆီး၍၊ လမ်း၌ရွှံ့ကိုကဲ့သို့ကျော်နင်းစေ
၇ ခြင်းငှါ၊ သူကိုငါမှာထားမည်။- သို့သော်လည်း၊
သူသည်အခြားသောအကြံ၊ အခြားသောအလို
ရှိ၏။ သူသည်ဖျက်ဆီး၍၊ များစွာသော လူမျိုး
၈ တို့ကိုပယ်ရှင်းခြင်းငှါ အလိုရှိ၏။- သူသည်အ
ဘယ်သို့ဆိုသနည်း ဟူမူကား၊ ငါ၏ မှူးမတ်တို့
၉ သည်မင်းကြီးဖြစ်ကြသည်မဟုတ်လော။- ကာ
လနောမြို့သည်ခါခေမိတ်မြို့ကဲ့သို့၎င်း၊ ဟာမတ်
မြို့သည်အာပဒ်မြို့ကဲ့သို့၎င်း၊ ရှမာရိမြို့သည် ဒမာ
၁၀ သက်မြို့ကဲ့သို့၎င်းဖြစ်သည်မဟုတ်လော။- ရှမာ
ရိရုပ်တုနှင့် ယေရုရှလင်ရုပ်တုထက်၊ သာ၍
မြတ်သော ရုပ်တုဆင်းတုကို ကိုးကွယ်သော
၁၁ တိုင်းနိုင်ငံများကို ငါလုယူသကဲ့သို့၎င်း၊- ရှမာရိ
မြို့နှင့်သူ၏ ရုပ်တုတို့ကို ငါပြုသကဲ့သို့၎င်း၊ ယေရု
ရှလင်မြို့နှင့် သူ၏ ရုပ်တုတို့ကို ငါပြုမည်မဟုတ်
လောဟုဆိုတတ်၏။
၁၂ သို့သော်လည်း၊ ထာဝရဘုရားသည် ဇိအုန်
တောင်နှင့်ယေရုရှလင်မြို့၌ အမှုတော်ကို ထတ်
စသတ်တော်မူပြီးမှ၊ အာရှုရိ ရှင်ဘုရင်၏ မာန
ထောင်လွှားခြင်း၊ မော်သော မျက်နှာနှင့် စော်
၁၃ ကားခြင်းကိုငါကြည့်ရှု၍စီရင်မည်။-ထိုမင်းက၊
ငါသည် ကိုယ်လက်ရုံးသတ္တိနှင့် ကိုယ်ညာဏ်
အားဖြင့်ငါတတ်နိုင်၏။ ပညာသတိနှင့်ငါပြည့်
စုံ၏။ လူမျိုးနေရာအပိုင်းအခြားတို့ကိုငါရွှေ့ပြီး
သူတို့၏ဘဏ္ဍာကိုလုယူပြီ။ ဘုရင်တို့ကိုသူရဲကဲ့
၁၄ သို့နှိမ့်ချပြီ။- ငှက်သည်ငှက်သိုက်ကိုတွေ့သ
ကဲ့သို့၊ လူတို့၏ဥစ္စာပစ္စည်းကို တွေ့ပြီ။ စွန့်ပြစ်
သောငှက်ဥတို့ကိုသိမ်းယူသကဲ့သို့၊ မြေကြီးတန်
ဆာရှိသမျှတို့ကိုငါသိမ်းယူပြီ။ အဘယ်သူမျှအ
တောင်ကိုမလှုပ်၊ နှုတ်သီးကိုမဖွင့်၊ မမြည်မတွန်
၁၅ ဟုဆိုသည်ဖြစ်၍၊-ကြိမ်လုံးသည်ကိုင်သောသူ
ကိုလှုပ်သကဲ့သို့၎င်း၊ တောင်ဝေးသည်မိမိသခင်
ကိုမြှောက်သကဲ့သို့၎င်း၊ ပုဆိန်သည် ခုတ်သောသူ
ကိုစော်ကားရမည်လော။ လွှသည် တိုက်သော
၁၆ သူကိုရန်ပြု၍ ထောင်လွှား ရမည်လော။- ထို
ကြောင့်၊ ကောင်းကင်ဗိုလ်ခြေသခင် အရှင်ထာ
ဝရဘုရားသည် ထိုမင်း၏ ဆူဝသောသူတို့၌ ပိန်
ကျုံ့ခြင်းကို သွင်းပေးတော်မူမည်။ သူ၏ဘုန်း
အောက်၌လည်းမီးလောင်သကဲ့သို့၊ လောင်စေ
၁၇ ခြင်းငှါ မီးရှို့တော်မူမည်။- ဣသရေလအမျိုး၏အ
လင်းသည် မီးဖြစ်တော်မူမည်။ သန့်ရှင်းသော
ဘုရားသည် မီးလျှံဖြစ်တော်မူမည်။ တနေ့ချင်း
တွင်၊ ထိုမင်း၏ ဆူးပင်အမျိုးမျိုးတို့ကို မီးရှို့၍၊

၁၈ ကွယ်စေတော်မူမည်။- တော၏ဘုန်းကိုင်၊ အသီးအနှံထွက်သော ထယ်၏ ဘုန်းကိုင်၊ သူ၏ ကိုယ်ခန္ဓာ နှင့်ဝိညာဉ်နှင့်တကွ ကုန်စေတော်မူသဖြင့်၊ ထိုမင်းသည် နာသောသူကဲ့သို့ အားလျော့
၁၉ လိမ့်မည်။- ကြွင်းသောတောပင်တို့ကို သူငယ်သည်ရေတွက်နိုင်အောင်၊ အနည်းငယ်မျှသာ ဖြစ်လိမ့်မည်။

၂၀ ထိုအခါမှစ၍၊ အေးလွတ်လျက်ကြွင်းသော ဣသရေလအမျိုးနှင့်ယာကုပ်အမျိုးသားတို့သည်၊ မိမိတို့ကိုညှဉ်းဆဲသောသူ၌ နောက်တဖန် မကိုးစားဘဲ၊ ဣသရေလအမျိုး၏သန့်ရှင်းသောအရှင် ထာဝရဘုရား၌ အမှန် ကိုးစား ကြလိမ့်မည်။-
၂၁ ကြွင်းသောသူတည်းဟူသော၊ ယာကုပ်အမျိုး၌ ကြွင်းသောသူတို့သည်တန်ခိုးကြီးတော်မူသော
၂၂ ဘုရားသခင်ထံသို့ပြန်လာကြလိမ့်မည်။- ထိုဣသရေလအမျိုး၊ သင်၏ အမျိုးသားတို့သည် သမုဒ္ဒရာသဲလုံးနှင့် အမျှများ သော်လည်း၊ ကြွင်းသောသူတို့သာလျှင် ပြန်လာကြလိမ့်မည်။ စီရင်ဆုံးဖြတ်သော သုတ်သင် ပယ်ရှင်း ခြင်း သည်
၂၃ တရားသဖြင့်လွှမ်းမိုးရလိမ့်မည်။-ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရားသည် မြေ တပြင်လုံး အထယ်၌ စီရင်ဆုံးဖြတ်သော၊ သုတ်သင်ပယ်ရှင်းခြင်းကိုပြုတော်မူလိမ့်မည်။

၂၄ ထို့ကြောင့်၊ ကောင်းကင်ဗိုလ်ခြေသခင်အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဇိအုန်မြို့၌နေသော ငါ၏ လူမျိုး၊ အာရှုရိမင်း ကြောင့် မကြောက် နှင့်။ သူ၏ကြိမ်လုံးနှင့် သင့်ကို ရိုက်မည်။ အဲဂုတ္တုမင်း ပြုသည် နည်းတူ သူ၏လှံတံ
၂၅ ကို သင်၏ အပေါ်မှာ ချိုး လိမ့် မည်။- သို့သော်လည်း၊ ခဏကြာပြီးမှ သူ့၌သည် ပျက်စီး ခြင်းသို့ရောက်သော အားဖြင့်၊ ငါအမျက်သည် ငြိမ်း
၂၆ ၍၊ ငါ့စိတ်ထည်းပြေလိမ့်မည်၊-ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားသည် ဩရဘ ကျောက်နားမှာမိဒျန်အမျိုးသားတို့ကိုဒဏ်ခတ်သကဲ့သို့ရင်၊ ပင်လယ်ကိုလှံတံတော်နှင့်မိုးသကဲ့သို့ရင်၊ ထိုမင်းအမှိုအဘးဥပါတ်ကိုပျင်ဆင်၍၊ အဲဂုတ္တု ထက်ထက်၌ကဲ့သို့တဖန် လှံတံတော်ကိုချီတော်
၂၇ မူမည်။- ထိုကာလ၌သူ၏ဝန်ကိုသင်၏ပခုံးပေါ်ကလည်း၊ သူ၏ထမ်းဘိုးကိုသင်၏လည်ပင်းပေါ်ကလည်းချရ၏၊ ဆီဝခြင်းကျေးဇူးကြောင့် ထမ်းဘိုး ပျက်စီးရ၏။
၂၈ အာရုပ်မြို့သို့ရောက်လေပြီ၊ မိဂြုန်မြို့ကို

ရောက်လွန်သွားပြီ၊ မိတ်မတ်မြို့၌ဖျည်းများကို
၂၉ ချထားပြီ။- တောင်ကြားကိုလွန်ကြပြီ၊ ဂေဗမြို့၌ စားခန်း ချကြပြီ၊ ရာမမြို့သည် ကြောက် ထိတ်လျက်ရှိ၏၊ ရှောလုနေရာ ဂိဗာမြို့သည် ပြေး၏။-
၃၀ အိုဂလ္လိမ်မြို့သူ၊ ကျွေးကြော် လော့၊ ဖိုလဲရှမြို့၊ နားထောင်ထော့၊ အာနသုတ်မြို့သည် အမဂ်ထာ
၃၁ ရှိ၏။- မာဒမေနမြို့သည်ပြောင်းသွားပြီ၊ ဂေဗိမ်
၃၂ မြို့သားတို့သည် လွတ်အောင်ပြေးကြ၏။- နောဘမြို့၌တရက်နေပြီးမှ၊ ဇိအုန်သတို့သမီး၏တောင်တည်း ဟူသော ယေရုရှလင်တောင်ကို ရွယ်၍၊
၃၃ ပါဓိထက်ကို လှုပ်လိမ့်မည်။- ကောင်းကင်ဗိုလ်ခြေ သခင် အရှင် ထာဝရ ဘုရား သည် ကြောက်မက် ဖွယ်သောအခြင်းအရာနှင့်၊ သစ်ပင်အခက်ကိုပယ်ရှင်းတော်မူမည်။ အရပ်မြင့်သောအခက်တို့ကိုခုတ်ချည်း၍၊ ကြီးမားသောအခက်တို့ကို
၃၄ နှိမ့်ချတော်မူမည်။- တောချုပ်ကိုပုဆိန်နှင့်ခုတ်ပယ်တော်မူ၍၊ လေဗနုန်တောသည်တန်ခိုးကြီးသောသူ၏ လက်အားဖြင့်၊ ယဲလျှလ် နေလိမ့်သတည်း။

၁၁

၁ ယေရှဲ အမျိုး အငုတ်၌ အတက် ပေါက် လိမ့်မည်၊ သူ၏အမြစ်တို့တွင်အညွန့်သည်အသီးသီး
၂ လိမ့်မည်၊-ထာဝရဘုရား၏ဝိညာဉ်တော်တည်းဟူသော၊ ညာဏ် ပညာ ကို ပေး သော ဝိညာဉ်၊ ကြံစည် တတ်စွမ်း နိုင်သော သတ္တိကို ပေးသော ဝိညာဉ်၊ ထာဝရ ဘုရား ကို သိ ၍၊ ကြောက် ရွံ့သော သဘောကို ပေးသော ဝိညာဉ် တော် သည်
၃ ထိုသူအပေါ်မှာကျိန်းဝပ်တော်မူလိမ့်မည်။-ထိုသူသည်ထာဝရဘုရားကိုကြောက်ရွံ့ခြင်း၌မွေ့လျော်သည်ဖြစ်၍၊ မိမိမျက်စိ မြင်သည်အတိုင်း တရားမစီရင်၊ မိမိနားကြားသည်အတိုင်း မဆုံး
၄ ဖြတ်ဘဲ၊- ဆင်းရဲ သားတို့၏ အမှုကို တရားတော်အတိုင်း စီရင်၍၊ နှိမ့် ချသော မြေ ကြီး သား တို့ ထက်၌ နေလျက်၊ ဖြောင့်မတ်စွာ ဆုံးဖြတ် လိမ့်မည်၊ မြေကြီးကို နှုတ် ကပတ် တော် လှံတံနှင့် ဒါဏ် ခတ် ၍၊ ဆိုး သော သူကို နှုတ် ခမ်း ထွက်
၅ သက်နှင့် ကွပ်မျက်လိမ့်မည်။- တရားနှင့် သစ္စာသည်သူ၏ခါးပန်းခါးစည်းဖြစ်လိမ့်မည်၊
၆ တောခွေးသည် သိုးသငယ်နှင့်အတူနေလိမ့်မည်၊ကျားသစ်သည်ဆိတ်သငယ်နှင့်အတူအိပ်လိမ့်မည်၊ နွားသငယ်၊ ခြင်္သေ့သငယ်၊ ဆူအောင်ကျွေးသောအကောင်တို့သည်အတူသွား

လာကြ၍၊ လူသူ ငယ်သည် သူတို့ကို ပို့ဆောင်
၇ လိမ့်မည်။- နွားမနှင့်ဝံမသည် အတူကျက်စား
၍၊ သူတို့သားငယ်များသည်အတူအိပ်ကြလိမ့်
မည်။ချင်္သေ့သည်လည်းနွားကဲ့သို့မြက်ကိုစား
၈ လိမ့်မည်။-နို့စို့သူငယ်သည်လည်းမြွေဆိုးတွင်း
ပေါ်မှာ ကစားလိမ့်မည်။ နို့ကွာသော သူငယ်
သည်လည်း၊ မြွေဟောက်တွင်း၀၌မိမိလက်ကို
၉ သွင်းလိမ့်မည်။- ငါ၏သန့်ရှင်းသောတောင်တ
ပြင်လုံး၌ အချင်းချင်း ညှဉ်းဆဲခြင်း၊ ဖျက်ဆီး
ခြင်းကိုမပြုရကြ။ အကြောင်းမူကား၊ ပင်လယ်
ရေသည်မိမိနေရာကို လွှမ်းမိုးသကဲ့သို့၊ မြေကြီး
သည် ထာဝရဘုရားကို သိကျွမ်းခြင်း ပညာနှင့်
ပြည့်စုံလိမ့်မည်။
၁၀ ထိုကာလ၌ယေရှဲ၏အမြစ်သည်ပေါက်၍၊ လူ
များအဖို့ထူသောအလံဖြစ်လိမ့်မည်။ ထိုအလံ၌
တပါး အမျိုးသားတို့သည် ဆည်းကပ် ကြလိမ့်
မည်။ ကျိန်းဝပ်တော်မူရာ အရပ်သည် ထည်း
၁၁ ဘုန်းကြီးလိမ့်မည်။- ထိုကာလ၌ထာဝရဘုရား
သည် လက်တော်ကို ဆန့်၍၊ ကျန်ကြွင်း သော
ကိုယ်တော်၏လူတို့ကို အာရှုရိပြည်၊ အဲဂုတ္တု
ပြည်၊ ပါသရုပြည်၊ ကုရှပြည်၊ ဧလံပြည်၊ ရှိနာ
ပြည်၊ ဟာမတ်ပြည်၊ ပင်လယ် တဖက်၌ ရှိသော
ပြည်များတို့မှ ကယ်ယူခြင်းငှါ တဖန် ပြုတော်မူ
၁၂ လိမ့်မည်။- တပါး အမျိုးသားတို့အဖို့ အလံကို
ထူတော်မူသဖြင့်၊ နှင်ထုတ်သောဣသရေလအ
မျိုးသားနှင့်၊ အရပ်ရပ်ကွဲပြားသောယုဒအမျိုး
သားတို့ကို မြေကြီး လေးမျက်နှာတို့မှ ခေါ်၍၊ စု
၁၃ ဝေးစေတော်မူလိမ့်မည်။- ဧဖရိမ် အမျိုးသည်
ငြူစူသောစိတ် ငြိမ်းလိမ့်မည်။ ရန်ပြုတတ်သော
ယုဒအမျိုးသားတို့သည်လည်း၊ ရန်ပြေကြလိမ့်
မည်။ ဧဖရိမ်အမျိုးသည်ယုဒအမျိုးကိုမငြူစူရ။
၁၄ ယုဒအမျိုးလည်းဧဖရိမ်အမျိုးကိုရန်မပြုရ။-သူ
တို့သည်အနောက်ဘက်၌ဖိလိတ္တိလူများကိုလိုက်
၍တိုက်ကြလိမ့်မည်။ အရှေ့ပြည်သားတို့၏ဥစ္စာ
ကိုအတူလုယူကြလိမ့်မည်။ ဧဒုံအမျိုးနှင့် မော
ဘအမျိုးကိုလည်းလုပ်ကြံကြလိမ့်မည်။အမ္မုန်
အမျိုးသားတို့သည်သူတို့၏ အုပ်စိုးခြင်းကိုခံရ
၁၅ ကြလိမ့်မည်။- ထာဝရဘုရားသည်လည်း၊ အဲ
ဂုတ္တုပင်လယ်၏ လျှာကို ဖျောက် ဖျက်တော်မူ
မည်။ ပြင်းစွာသော လေတော်နှင့် တကွ လက်
တော်ကို မြစ်ပေါ်မှာလှုပ်၍၊ ချောင်းခုနစ်သွယ်
ဖြစ်စေခြင်းငှါ ရိုက်ခတ်တော်မူသဖြင့်၊ လူတို့
သည်ခြေနင်းစီးလျှက်ကျော်သွားကြလိမ့်မည်။-
၁၆ ဣသရေလ အမျိုးသားတို့သည် အဲဂုတ္တုပြည်မှ
ထွက်သွားသော အခါ၌ ဖြစ်သကဲ့သို့၊ အာရှုရိ
ပြည်မှကျန်ကြွင်းသောကိုယ်တော်၏လူတို့သွား
ရာလမ်းကြီးဖြစ်ရလိမ့်မည်။

## ၁၂

၁ ထိုကာလ၌ သင်မြွက်ဆိုရမည်ကား၊ အိုထာ
ဝရဘုရား၊ အကျွန်ုပ်သည်ကုဏ်ကျေးဇူးတော်
ကို ချီးမွမ်းပါမည်။ အကျွန်ုပ်ကို အမျက် ထွက်
တော်မူသော် လည်း၊ တဖန် အမျက်တော် ငြိမ်း
၂ ၍၊ အကျွန်ုပ်ကို နှစ်သိမ့်စေတော်မူ၏။- ဘုရား
သခင်သည်ငါ့ကိုကယ်တင်သောအရှင်ဖြစ်တော်
မူ၏။ ကြောက်ထန့်သောစိတ်မရှိဘဲ ရဲရင့်မည်။
ထာဝရဘုရားသည်ငါချီးမွမ်းရာ၊ငါသီခြင်းဆို
ရာ၊ ငါ့ကိုကယ်တင်တော်မူသောအရှင်ဖြစ်တော်
၃ မူ၏။- သင်တို့သည် ဝမ်းမြောက်သော စိတ်နှင့်
ကယ် တင်ခြင်း စမ်းရေတွင်း ထဲ၌ ရေခပ် ရကြ
၄ လိမ့်မည်။- ထိုကာလ၌ လည်းထာဝရဘုရား၏
ဂုဏ် တော်ကို ချီးမွမ်း ကြလော့။ နာမ တော်ကို
ပဌနာ ပြုကြလော့။ အမှုတော်တို့ကို လူများတို့
တွင် ဖော်ပြကြလော့။ နာမတော်သည် မြင့်မြတ်
၅ သောကြောင့်ချီးမွမ်းကြလော့။- ထာဝရဘုရား
ကိုထောမနာသီခြင်းဆိုကြလော့။ထူးဆန်းသော
အမှုကိုပြုတော်မူပြီ။ အမှုတော်သည်မြေတပြင်
လုံး၌ထင်ရှားပါစေ။ ဇိအုန်သတို့သမီး၊ကျေး
၆ ကြော် လော့။ ဝမ်းမြောက် သ ဖြင့် အော် ဟစ်
လော့။ အကြောင်းမူကား၊ ဣသရေလအမျိုး၏
သန့်ရှင်းသော ဘုရားသည် သင်၏ အလယ်၌
ဘုန်းကြီးတော်မူ၏ဟုမြွက်ဆိုရလိမ့်မည်။

## ၁၃

၁ ဗာဗုလုန်မြို့ကိုရည်ဆောင်၍ အာမုတ်၏သား
ယေရှာယ ခံရသော ဗျာဒိတ်တော် ဗန္ဒက် ဟူမူ
၂ ကား၊- ရှင်းလင်းသောတောင်ပေါ်မှာ အလံကို
ထူကြ။ ကျယ် သော အ သံ နှင့် အော် ဟစ်ကြ။
လက်ကိုလှုပ်ကြ၊ သူတို့သည် မင်းတို့နေရာ တံ
၃ ခါးများကို ဝင်ကြစေ။- ငါသန့်ရှင်း စေသောသူ
တို့ကို ငါမှာထားပြီ။ ငါပေးသော ဘုန်း အာနု
ဘော် ကြောင့် ဝမ်း မြောက်သောသူ၊ ငါ၏ သူရဲ
၄ တို့ကို ငါအမျက်ပြေစေခြင်းငှါ ငါခေါ်ပြီ။- ကြီး
စွာသော အလုံးအရင်း၏ အသံကဲ့သို့ တောင်တို့
အပေါ်မှာ လူများ၏အသံ ဗထ်၊ စုဝေးသောတိုင်း
သူပြည်သားများတို့၏ အုတ်အုတ် ကျွက်ကျွက်

ဝေးသောအထိမထိ မှီသည်နှင့်၊ ကောင်းကင် မိုးထိ
မြေအရှင်ထာဝရဘုရားသည် စစ်တိုက်ခြင်းငှါ၊
အထုံ၊ အရင်းကို စီရင် ခင်း ကျင်း တော် မူ၏။-
၅ ထာဝရ ဘုရား နှင့် အ တူ တ ကွ အ မျက် တော်
ထက်နက်တို့သည် တပြည်လုံးကို ဖျက်ဆီးခြင်း
ငှါ၊ဝေးသောပြည်၊ကောင်းကင်စွန်းမှလာကြ၏။
၆ ထာဝရ ဘုရား၏ နေ့ ရက် သည် နီး သော
ကြောင့်၊ငိုကြွေးမြည်တမ်းကြလော့၊ အနန္တတန်
ခိုးရှင်စီရင်တော်မူသော ထွေးအန္တရာယ် ကဲ့သို့
၇ လာလိမ့်မည်။- ထို ကြောင့်၊ ရှိသမျှသော လက်
တို့သည် ကျကြလိမ့်မည်၊ လူအပေါင်း၊ တို့သည်
စိတ်ပျက်၍ကြောက်ထိန့်ခြင်းသို့ရောက်ကြလိမ့်
၈ မည်။- နာခြင်းဝေဒနာ အမျိုးမျိုးကိုခံရကြလိမ့်
မည်၊ သား ဖွားသော မိန်းမကဲ့သို့ ဝေဒနာကိုခံရ
လျှက်၊တယောက်ကို တယောက် ကြည့်ရှု၍မှိုင်
တွေဆဲဖြစ်၍၊သူတို့မျက်နှာသည် မီးလျှံအဆင်းရှိ
၉ လိမ့်မည်။- ထို ပြည်ကို ဖျက် ဆီး၍၊ အပြစ် ကြီး
သော ပြည်သူ ပြည်သား တို့ကို သုတ်သင် ပယ်
ရှင်းခြင်းငှါ၊ထာဝရဘုရား၏ကြမ်းကြုတ်သော
နေ့ ရက် သည် ပြင်း ထန် သော ဒေါသ အမျက်
၁၀ ထွက်လျှက် လာလိမ့်မည်။- မိုဃ်းကောင်းကင်
ကြယ်နက္ခတ်တို့သည်အလင်းကိုမပေး၊နေသည်
လည်း ထွက် သော အခါ မိုက် လျက်၊ လ သည်
၁၁ လည်းမထွန်း မလင်းဘဲလျက် ရှိလိမ့်မည်။- ထို
လောကီနိုင်ငံ၏ အပြစ်ကိုင်၊ မတရားသော သူ
တို့၏ ဒုစရိုက်များကိုင် ငါစစ်ကြောမည်၊ မာန
ကြီးသော သူတို့၏ ထောင် လွှား ခြင်း ကို ငါ ငြိမ်
စေ၍၊ ကြမ်းကြုတ်သောသူတို့၏စော်ကားခြင်း
၁၂ ကို ငါနှိမ့်ချမည်။- လူသည် ရွှေစင်ထက် အဘိုး
ထိုက်မည်အကြောင်း၊ ဆင်းရဲသားသည် ဩဖိ
ရရွှေကျောက်ထက်အဘိုးထိုက်မည်အကြောင်း၊
၁၃ ငါပြုမည်။- သို့ဖြစ်၍၊ ကောင်းကင် ဗိုလ်ခြေအ
ရှင်ထာဝရဘုရား၏ဒေါသအမျက်တော်ပြင်းစွာ
ထွက်သောနေ့ရက်၌၊ မိုဃ်းကောင်းကင်ကို ငါ
လှုပ်ရှားမည်၊ မြေကြီးလည်း မိမိနေရာမှ ရွေ့ရ
၁၄ လိမ့်မည်။- ပြည်သားတို့သည် ကြောက်၍ပြေး
သော ဒရယ်မ၊ ထိန်းသိမ်းသူ မရှိသော သိုးများ
ကဲ့သို့ ဖြစ်၍၊ အသီးအသီး မိမိအမျိုး သားချင်း
တို့ကို မျက်နှာပြု၍၊ အသီး အသီး မိမိ ပြည်သို့
၁၅ ပြေးကြလိမ့်မည်။- တွေ့မိသမျှသောသူတို့ကိုထိုး
နှင့်ထိုးရ၏၊ စုဝေးလျှက်ရှိသော သူအပေါင်းတို့
၁၆ သည်း ထားဖြင့် ဆုံးကြလိမ့်မည်။- သူတို့သား

သမီး များ ကို သူ တို့ မျက် မှောက် ၌ မြေပေါ်မှာ
ဆောင့်ပွတ်လိမ့်မည်၊ သူတို့အိမ်များကို လုယက်
၍၊သူတို့မယားများကို အဓမ္မပြုကြလိမ့်မည်။
ကြည့်ရှုလော့၊ ငွေကို ပမာဏမပြု၊ ရွှေကိုအ
လိုမရှိသောမေဒိလူများကို သူတို့တဘက်၌ငါနှိုး
၁၈ ဆော်မည်။- လူတို့သည် လူပျိုတို့ကို လေး နှင့်
မိုထိခတ်ကြလိမ့်မည်၊အကလေးတို့ကိုမသနား
ကြ၊ သူတို့မျက်စိသည် သူငယ်တို့ကို မနှမြော
၁၉ ရ။- ထိုင်းနိုင်ငံတို့၏ အထွဋ်၊ ခါလဒဲအမျိုးသား
တို့၏ ဘုန်းအသရေဖြစ်သော ဗာဗုလုန်မြို့သည်
ဘုရားသခင် ဖျက် ဆီး တော်မူသော သောဒုံ မြို့
၂၀ နှင့်ဂေါမောရမြို့ကဲ့သို့ဖြစ်လိမ့်မည်။- ထိုမြို့၌ကာ
လအစဉ်၊ လူမျိုးအဆက်ဆက် အဘယ်သူမျှမ
နေရ၊ ထိုမြို့၌အာရပ်လူသည်တဲကိုမျှမဆောက်
ရ၊ သိုးထိန်းတို့သည် သိုးခြံကိုမျှ မလုပ်ရကြ။-
၂၁ တောသားရဲတို့သည် ထိုမြို့၌ အိပ်ကြလိမ့်မည်၊
အိမ်တို့သည်မြည်တတ်သောတိရစ္ဆာန်များနှင့်
အပြည့် ရှိကြ လိမ့် မည်၊ ကုလားအုတ် ငှက်တို့
လည်း [illegible]၍၊ မျောက်တို့လည်း ကခုန် ကြ
၂၂ လိမ့်မည်။- ဘောငွေး တို့ သည် လည်း၊ ဘုံ ဗိ
မာန် များ၌၎င်း၊ မြေခွေး တို့သည် လည်း၊ ကျက်သ
ရေတိုက်များ၌၎င်း၊ ဟူကြမြည်ကြလိမ့်မည်၊ ထို
သို့သောကာလ နီးလှပြီ၊ ထိုမြို့၏ အသက်တာမ
ရှည်ရ။

၁၄

၁ အကြောင်းမူကား၊ ထာဝရဘုရားသည် ယာ
ကုပ်အမျိုးကို သနား၍ ဣသရေလ အမျိုးကိုတ
ဖန်ရွေးကောက်သဖြင့်၊ သူတို့ကို နေရင်း ပြည်၌
နေရာ ချထားတော်မူလိမ့်မည်၊ တကျွန်းတနိုင်ငံသား
တို့သည်သူတို့နှင့် ပေါင်းဖော်၍ ယာကုပ်အမျိုး
၂ ၌ ဆည်းကပ် ကြလိမ့်မည်။- တပါး အမျိုးသား
တို့သည်သူတို့ကို နေရင်းအရပ်သို့ ပို့ဆောင်ကြ
လိမ့်မည်၊ဣသရေလအမျိုးသားတို့သည်တပါး
အမျိုးသား တို့ကို ထာဝရ ဘုရား၏ ပြည် တော်
တွင်၊ကျွန်နှင့် ကျွန်မ အရာ၌ ထား၍ စေစား ကြ
လိမ့်မည်၊ အထက်က သိမ်းသွား ဘူးသောသူတို့
ကို တဖန်သိမ်းယူခဲ့ကြ လိမ့်မည်၊ ညှဉ်းဆဲဘူး
သောသူတို့ကိုလည်းအုပ်စိုးကြလိမ့်မည်။
၃ ထိုအခါ ထာဝရ ဘုရားသည် သင့်ကိုငြိငြင်
ခြင်း၊ မိုးမိုမ်ခြင်း၊ သူတပါးစေစား၍ ဆင်းရဲစွာ
အစေကျွန်ခံရခြင်းထဲက နှုတ်၍၊ ငြိမ်းသာပေး
၄ တော်မူလျှင်၊- သင်သည်ဗာဗုလုန်ရှင်ဘုရင်ကို

ရည် ဆောင်၍၊ ဝိုဏကားကို ဤသို့ မြွက် ဆို လိမ့်
မည်၊ အမျိုးတရ ပြုသော သူသည် ဆုံးလေပြီတ
၅ ကား၊ ရွှေမြို့တော်ထည်ဆုံးလေပြီတကား၊- ထူ
၆ ဆဏ္ဍဝါ ထိုကို အရှက်ထွက်၍၊ အစည် မပြတ်
နှိုက်ခြင်း၊ အတိုင်းထိုင်း အပြည်ပြည်တို့ကို မာန
မိတ်နှင့်အုပ်စိုး၍၊ အစည်မပြတ် ညှဉ်းဆဲခြင်း
ကို ပြုသော အဓမ္မ လူ တို့၏ တောင် ဝေးကို ငင်၊
ထိုသို့ အမျိုး ရသော သူတို့၏ ရာဇ လှံ တံ ကိုငင်၊
၇ ထာဝရ ဘုရား ချိုးတော်မူပြီ၊- မြေ တပြင်လုံး
သည်ငြိမ်ဝပ်ချမ်းသာခြင်းရှိ၏၊ ရွှင်လန်းစွာသီ
၈ ခြင်း ဆိုသံ နှင့် ကျွေးကြော် ကြ၏၊- ထင်းရှူးပင်
နှင့်လေဗနုန်အာရဇ်ပင်တို့က၊ သင်သည်လဲပြီး
သည်နောက်၊ ငါတို့ကိုခုတ်လှဲသောသူသည်
မတက် မလာ ရဟု၊ သင့်ကို ရည် ဆောင်၍ ဝမ်း
မြောက်ကြ၏၊
၉ သင်သည်ချောက်ထသောအခါ၊ အောက် အ
ရပ်မရဏာ နိုင်ငံသည် ကြိုဆို အံ့သော ငှါ လှုပ်
လေ၏၊ သင်းချိုင်းသားများနှင့်လောကီမင်းများ
အပေါင်း တို့ ကို သင့် အတွက် ကြောင့် နှိုးဆော်
လေ ၏၊ အ တိုင်း တိုင်း အ ပြည် ပြည် သော ရှင်
ဘုရင်အပေါင်းတို့ကို ရာဇပလ္လင်တို့မှ ထစေ၏၊-
၁၀ ထိုသူ အပေါင်းတို့က၊ သင်သည်ထည်းငါတို့ကဲ့
သို့ အားနည်းပါသည် တကား၊ ငါနှင့်အတူ ပါ
၁၁ သည်တကား၊- သင်၏ ဘုန်းအသရေနှင့် သင်၏
တူရိယာမျိုး အသံ ဗထံ တို့ကို မရဏာနိုင်ငံတွင်
ရွတ်ချလေပြီတကား၊ သင့်အောက်၌ပိုးကောင်
များကိုခင်းလျက်၊ သင့်အပေါ်၌တီကောင်များ
ကို ခြုံလျက် ရှိပါသည် တကားဟု၊ သင့်ကိုရွတ်
ဆက်၍ပြောဆိုကြလိမ့်မည်၊
၁၂ ထိုနံနက်သား၊ မိုဃ်းသောက် ကြယ်၊ သင်
သည်ကောင်းကင်ကကျလေပြီတကား၊ အပြည်
ပြည်တို့ကို နှိပ်စက်သော သင် သည်၊ မြေ တိုင်
အောင်မှုတ်လှဲခြင်းကို ခံရလေပြီ တကား၊-
၁၃ သင်ကလည်း၊ ကောင်းကင်ပေါ်သို့ငါတက်မည်၊
ဘုရားသခင်၏ကြယ်တို့အပေါ်မှာပလ္လင်ကိုငါ
ချီးမြှောက်မည်၊ မြောက်မျက်နှာဘက်၊ ဗျာပိတ်
၁၄ တော် တောင်ပေါ်မှာ ငါ ထိုင်မည်၊- မိုဃ်း တိမ်
ထိပ်ပေါ်သို့ငါတက်မည်၊ အမြင့်ဆုံးသောဘုရား
၁၅ ကဲ့သို့ ငါ နေ မည်ဟု၊ စိတ် အကြံ ရှိလေပြီ၊- သို့
သော်လည်း၊ သင်သည်မရဏာနိုင်ငံ၊သင်းချိုင်း
တွင်းထဲသို့နှိမ့်ချခြင်းကိုခံရလေပြီ၊
၁၆ သင့်ကိုမြင်သောသူတို့သည် စေ့စေ့ကြည့်ရှု၍
ဆင် ခြင် ပြီး လျှင်၊ မြေ ကြီး ကို တုန် လှုပ် စေ၍၊
တိုင်းနိုင်ငံများကို လှုပ်ရှားစေသောသူထား ဤ
၁၇ သူလော၊- လောကီနိုင်ငံကိုတောကဲ့သို့ဖြစ်စေ၍၊
မြို့များကိုဖျက်ဆီးသောသူ၊ အချုပ်ခံရသောသူ
တို့ကိုမိမိနေရာသို့တဖန် မလွှတ်သောသူကား ဤ
၁၈ သူလော၊- အပြည်ပြည်ရှိသောရှင်ဘုရင်အပေါင်း
တို့သည် အသီးအသီး မိမိတို့ စေတီ၌ ဘုန်းအသ
၁၉ ရေနှင့် အိပ်ကြ၏၊- သင့်ကို မူကား၊ ရွံရှာ ဖွယ်
သော သစ်ခက်ကဲ့သို့ သင်းချိုင်းထဲက ထုတ်ပြစ်
ရ၏၊ ကွပ်မျက်သောသူ၊ ထားဖြင့် ထိုးသောသူ၊
သင်းချိုင်း တွင်း၌ ကျောက် ရုထဲသို့ ချသောသူ
များနှင့်ဖုံး အုပ်လျက်၊ ခြေဖြင့် ကျော် နင်းသော
၂၀ အသေကောင် ဖြစ်လေ၏၊- သူတပါးတို့နှင့် ရော
နှော၍ သင်းဂြိုဟ် ခြင်းကို မခံရ၊ အကြောင်းမူ
ကား၊ မိမိ ပြည်ကို ဖျက် ဆီးပြီ၊ မိမိ အမျိုးသား
ချင်း တို့ကိုသတ်လေပြီ၊ အဓမ္မ ပြုသော သူတို့၏
အနွယ်သည် ဂုဏ် အသရေ အလျှင်း မရှိ ရဟု
ပြောဆိုကြလိမ့်မည်၊
၂၁ သူ၏သားမြေးတို့သည်မထ၊မြေကြီးကိုမပိုင်၊
မြေတပြင် လုံးတွင် ရန်သူများကို မနှိုးဆော်နိုင်
မည်အကြောင်း၊ သူတို့အမှိုက်ထိုးတေးတို့၏အပြစ်
၂၂ ကြောင့်ကွပ်မျက်ခြင်းကိုပြင်ကြလော့၊- ကောင်း
ကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့် တော် မူ
သည်ကား၊ ငါသည် သူတို့ တဖက်၌ ထ၍ ဗာဗု
လုန်မြို့၏နာမနှင့် အကြွင်း အကျန် ကိုငင်၊ သား
မြေးတို့ကိုငင်ပယ်ဖြတ်မည်ဟု၊ ထာဝရ ဘုရား
၂၃ မိန့်တော်မူ၏၊-တဖန်လည်း၊ငါသည်ထိုမြို့ကိုဖြူ
ကောင် များ နေ ရာ၊ ရေ တွှမ်း ရိုးရာ အရပ် ဖြစ်
စေမည်၊ ဖျက် ဆီး ခြင်း၏ တံမြက် စည်း ဖြင့်
လှည်းမည်ဟု၊ ကောင်းကင် ဗိုလ်ခြေအရှင် ထာ
ဝရဘုရားမိန့်တော်မူ၏၊
၂၄ ကောင်းကင် ဗိုလ်ခြေအရှင် ထာဝရ ဘုရား
၂၅ သည်ကျိန်ဆို၍မိန့်တော်မူသည်ကား၊ ငါ၏မြေ
ပေါ်မှာ အာရှုရိ မင်းကို ငါ နှိပ် စက် မည်၊ ငါ၏
တောင်ရိုး ပေါ်မှာ ခြေဖြင့်ကျော်နင်းမည်ဟု၊ ငါ
ကြံစည်သည်အတိုင်းဖြစ်၍၊ငါစီရင်ချက်ထည်း
တည်ရလိမ့်မည်၊ ထိုအခါသူ၏ ထမ်းထိုးကို သူ
တပါး အပေါ်က ရွေ့၍၊ သူတို့ ပခုံး ပေါ်မှာ ထင်
၂၆ သောဝန်ကိုချရသော အ ခွင့်ရှိလိမ့်မည်၊- မြေတ
ပြင် လုံးတွင် ထိုသို့ ကြံစည်တော်မူ၏၊ ခပ်သိမ်း
သောပြည်တို့အပေါ်မှာထိုသို့လက်တော်ကိုဆန့်
၂၇ လျက် ရှိ၏၊- ကောင်းကင် ဗိုလ် ခြေ အရှင် ထာ

ဝရာဘုရား၏အကြိတော်ကိုအထယ်သူဖျက်ထိမ့်
မည်နည်း၊၊ ဆန့်တော်မူသော လက်တော်ကို အ
ဘယ်သူလှန်လိမ့်မည်နည်း။
၂၈ အာခတ်မင်းကြီး အနိစ္စရောက်သောနှစ်တွင်၊
၂၉ ခံရသော ဗျာဒိတ်တော် ဟူမူကား၊- ဖိလိတ္တိ
ပြည်ထို၊၊ သင့်ကို ရိုက်သောကြိမ်လုံး ကျိုးသည်
ကိုထောက်၍၊ ဝမ်းမမြောက်နှင့်။ ထိုမြွေအမျိုး
ထဲကမြွေဆိုးပေါက်လိမ့်မည်၊သူ၏အဥ္စယ်သည်
၃၀ ထည်း ပျံတတ်သော မီးမြွေ ဖြစ်လိမ့်မည်။- အ
ထိုင်းထက် အဆွန်ဆင်းရဲသောသူတို့သည် စား
ရကြလိမ့်မည်။ ဆင်းရဲ ငြိုငြင်သော သူတို့သည်
ဘေး လွတ်လျှက်၊ အိပ်ရကြလိမ့်မည်။ ငါသည်
သင်၏အမြစ်ကိုသွေ့ခြောက်ခြင်းအားဖြင့်သတ်
၍၊ သင်၏ အကြွင်းကိုထည်းမြွေဆိုးသည် ကွပ်
၃၁ မျက်လိမ့်မည်။-အိုတံခါး၊ ညည်းတွားလော့။အို
မြို့၊ငိုကြွေးမြည်တမ်းလော့။ အိုဖိလိတ္တိပြည်ထို၊၊
သင်သည် မှိုင်တွေလျှက်ရှိ၏။ မြောက်မျက်နှာမှ
မီးခိုးထွက်လာ၏။ ထိုအလုံးအရင်း၌တလောတ
၃၂ တခြားစီ နေသော သူ မရှိ။- တပြည် တနိုင်ငံ မှ
ရောက် လာသော သံတမန် တို့အား အဘယ်သို့
ပြန်ပြော ရမည်နည်း ဟူမူကား၊ ထာဝရဘုရား
သည်ဇိအုန်မြို့ကို တည်ထောင်တော်မူသည်ဖြစ်
၍၊ ကိုယ်တော်၏ ဆင်းရဲသားတို့သည် ထိုမြို့၌
ကိုးစားကြ၏။

၁၅

၁ မောအပြည်နှင့်ဆိုင်သောဗျာဒိတ်တော်ကား၊
ထုပ်ကြီးသောညဥ့်အခါ၊ မောဘပြည် အာရမြို့
သည်ပျက်စီး၏၊ လုပ်ကြီးသော ညဥ့်အခါ၊မော
၂ အပြည် ကိရမြို့သည် ပျက်စီး၏၊- ပြည်သားတို့
သည် ဗက်မြို့၊ ဒိဘုန်မြို့၌ မြင့် သော အရပ် တို့
တက်၍ငိုကြွေးကြ၏၊မောဟပြည်သားတို့သည်
နေဗောမြို့၊ မေဒဘမြို့ ပေါ်မှာ ညည်း တွား မြည်
တမ်းကြ၏၊သူတို့ခေါင်းပေါ်မှာဆံပင်မရှိ၊ သူတို့
၃ မုဆိတ် ကိုထည်း ရိတ်ပယ်ပြီ၊- ထမ်း ခရီး တို့
တွင်လျှော်တေအဝတ်ကိုဝတ်ကြ၍၊အိမ်မိုးပေါ်
၌၎င်း၊ ထမ်းမန္ဒိ၎င် ရှိသ မျှ သော သူ တို့ သည်
ညည်းတွား မြည်တမ်း၍၊ အထွန်မျက်ရည်ကျ
၄ ကြ၏၊- ဟေရှဘုန်မြို့နှင့်ဧလာလေမြို့ တို့ထည်း
ငိုကြွေး၍၊ ငိုသံသည် ယာဟတ်မြို့ တိုင် အောင်
ကြား ရ၏၊ မောဘ သူရဲ တို့ သည် ထည်း၊ ထုန့်
၅ လှုပ်သော စိတ်နှစ်ထုံးနှင့် ငိုကြွေးကြ၏၊- ငါ့နှစ်
ထုံး သည်ထည်း၊ မောဘအဖို့ ငိုကြွေး၏၊ ပြေး

သောသူတို့သည်၊ သုံးနှစ်အာထက်ရှိသောနွားမ
ကဲ့သို့ဇောရမြို့တိုင်အောင်ထည်ကြ၏၊ လုဟိတ်
တောင်ပေါ်သို့မျက်ရည် ကျလျှက် တက်ကြ၏၊
ဟောရနိမ်မြို့သို့ သွားသောလမ်း၌ထည်း၊ ဆုံး
၆ ရှုံးခြင်းအသံကိုလွှင့်ကြ၏၊- အကြောင်းမူကား၊
နိမရိမ်ရေကန်တို့သည်ဆိတ်ညံ၍၊ မြက်ပင်များ
သွေ့ခြောက်ခဲ့ပြီ၊ ပျိုးပင် များ ထည်း သေ ခဲ့ပြီ၊
စိမ်းသောအပင်တပင်မျှမရှိ၊- ထိုကြောင့်၊သူတို့
သည် မိမိတို့ဆည်းပူးသောဥစ္စာ၊ သိုထားသော
အဖွာ များကို မိုဃ်းမခပင် ရှိုင့်သို့ ယူသွားကြ
၈ လိမ့်မည်။- ငိုကြွေးသောအသံသည်မောအပြည်
ကို နှံ့ပြားလေ၏၊ ညည်းတွားမြည်တမ်းသောအ
သံသည်ဧဂလိမ်မြို့ တိုင်အောင်၎င်း၊ ဗေရဧလိမ်
၉ မြို့ တိုင် အောင်၎င် ရောက်လေ ၏၊- အကြောင်း
မူကား၊ ဒိမုန် မြို့ ရေတို့ သည် အသွေး နှင့် ပြည့်
ကြ၏၊ ဒိမုန်မြို့အပေါ်မှာအခြားသောဘေးများ
ကို၎င်၊လွတ်အောင်ပြေးသောမောအပြည်သား
နှင့်ကျန်ကြွင်းသောပြည်သားအပေါ်မှာချင်သေ့
တို့ကို၎င်ငါရောက်စေမည်။

၁၆

၁ ခြေရှင် ထံသို့ သိုး သငယ် ကို ပေး လိုက် ကြ
လော့၊သောအမြို့မှတောတရှောက်ထုံး၊ဇိအုန်သ
၂ တို့သို့၏ တောင်သို့ပေးလိုက်ကြလော့၊- မိမိအ
သိုက်ကို စွန့်ပြစ်၍ ထည် ရ သော ငှက် ကဲ့သို့၊
မောအသို့းတို့သည်အာနုန်မြစ်ကူးရာ ကမ်းနား
၃ မှာရှိကြလိမ့်မည်။- အကြံပေးလော့၊ တရားထ
ဖြင့်စီရင်လော့၊ စွန်းတည့်အထင်းထဲ၌ညဥ့်ကဲ့
သို့သင်၏အရိပ်ကိုဖြစ်စေလော့၊ နှင်ထုတ်သော
သူတို့ကို၀ှက်ထားလော့၊ ပြေးသောသူတို့ကိုမပြ
၄ နှင့်။- မောအပြည်မှနှင်ထုတ်သောသူတို့သည်
သင်နှင့်အတူနေကြစေလော့၊ ဖျက်ဆီးသောသူ
၏ ထက်မှ လွတ် စေ ခြင်း ငှါ၊ သူတို့ကို စောင့်မ
လော့၊ သင့်ကိုညှဥ်းဆဲသော သူမရှိ၊ ဖျက်ဆီး
သောသူ ပြတ်လေ၏၊ နှိပ်နင်းသော သူတို့ကိုမြေ
၅ ပေါ်က ပယ် ရှင်း လေ ပြီ၊- ရာဇပလ္လင်သည်
ထည်း၊ ကရုဏာ၌ တည် လိမ့်မည်၊ သစ္စာနှင့်
ပြည့်စုံ၍၊ပလ္လင်တော်ပေါ်မှာထိုင်တော်မူသော
သူသည်ဒါဝိဒ်တဲတော်၌တရားစီရင်၍၊ တရားမှုကို
အလျင်အမြန် ဆုံးဖြတ်တော်မူလျက်၊ ဓါမ္မိဝိမိဆိုး
၏ထဲတော်၌တရားစီရင်တော်မူလိမ့်မည်။
၆ မောအ၏ မာနကိုင၊ ငါတို့သည် ကြားသိကြ၏၊
အလွန်ကြီးသော မာနဖြစ်၏၊ ထောင်လွှားခြော်

ကား ခြင်း၊ ဧါသအမှုက် ထွက် ခြင်း ရှိ၍၊ အ
ချည်းနှီး ထက်သက် ဝါကြွားသော စကား ကို
၇ ပြောတတ်၏။- ထိုကြောင့်၊ မောဘသည်မိမိအ
တွက် ညည်းတွား မြည်တမ်းရလိမ့်မည်။ မြည်
သားရှိသမျှတို့သည် ညည်းတွား၊ မြည်တမ်းကြ
လိမ့်မည်။ ကိရ ဟရက်မြို့ ပျက်သည် အတွက်၊
သင်တို့သည်ညည်းတွားကြလိမ့်မည်၊ ထိုမြို့သည်
၈ စါဏ်ခတ်ခြင်းကိုအတွန်ခံရ၏။-ဟေရှဘုန်လယ်
ပြင်တို့သည်သွေ့ခြောက်ကြ၏။ ဗိဗမာစပျစ်နွယ်
ပင်အညွန့်များကိုလည်း၊ တပါးအမျိုးသားမင်း
တို့သည် ချိုးကြပြီ၊ ထိုအညွန့်တို့သည် အထက်
ကယာဇာမြို့တိုင်အောင်ရောက်၍၊ တောသို့လည်
တက်ကြ၏။ အထက်တို့သည် ရှည်လျား၍၊ ပင်
၉ လယ်ကို လွန်ကြ၏။- ထိုကြောင့်၊ ယာဇာမြို့ အ
တွက် မျက်ရည် ကျသကဲ့ သို့၊ ဗိဗမာစပျစ်နွယ်
ပင်အတွက် ငါသည်မျက်ရည်ကျမည်၊ ဟိုလေရှ
ဘုန်မြို့နှင့် ဧလာလေမြို့၊ ငါသည် မျက် ရည် ကျ
လျက် သင့်ကို ရေ လောင်းမည်။ အကြောင်းမူ
ကား၊သင်၏သစ်သီးနှင့်စပါးနှံ တို့သည် စစ်တိုက်
၁၀ သံနှင့်တွေ့ကြုံကြပြီ။- ဝပြောသော လယ်ပြင်ထဲ
မှာဝမ်းမြောက် ရွှင်လန်းခြင်းပြတ်လေပြီ။ စပျစ်
ဥယျာဉ်၌သီခြင်းမဆိုရကြ၊ မကြွေးကြော်ရကြ၊
စပျစ်သီး နယ်ရာကျင်း၌ စပျစ်သီး ကို နင်းသော
သူလည်း မနင်းရ။ ကြွေးကြော် သော အသံ ကို
၁၁ လည်း ငါပြတ်စေပြီ။- ထိုကြောင့်၊ ငဝမ်းသည်
မောဘပြည်အတွက်၊ ငအဖူသည်ကိရဟရက်
၁၂ မြို့အတွက်၊စောင်းကဲ့သို့မြည်ရလိမ့်မည်။- ထိုအ
ခါ မောဘသည် မိမိမြင့်သောအရပ်၌ မိမိကိုပင်
ပန်းစေခြင်း၊ပဌနာပြုဘို့သော၄၊မိမိသန့်ရှင်းရာ
ဌာနသို့ဝင်ခြင်းအရာသည် ထင်ရှားသော်လည်း၊
အကြံမမြောက်နိုင်ရာ။
၁၃ ထိုသို့ ထာဝရ ဘုရား သည် မောဘ ၏ အ
ကြောင်း စကား ကို အထက်က မိန့်တော် မူ၏။-
၁၄ ယခုတဖန်မိန့်တော်မူသည်ကား၊အခစားသော
သူရေတွက်သည်အတိုင်း၊သုံးနှစ်လွန်မှ၊မောဘ
ပြည်၏ဘုန်း၊အသရေသည်မိမိအလုံးအရင်းနှင့်
တကွရှုတ်ချခြင်းသို့ ရောက် ရမည်။ ကျန် ကြွင်း
သောသူတို့သည်အတွန်နည်း၍၊ခွန်အား ကုန်ရ
ကြလိမ့်မည်ဟုမိန့်တော်မူ၏။

၁၇

၁ ဒမာသက် မြို့ နှင့် ဆိုင် သော ဗျာ ဒိတ် တော်
အား၊ကြည့်ရှုလော့။ ဒမာသက်မြို့သည်မြို့မဖြစ်
၂ လောင်ပျက်စီးရာပုံဖြစ်ရ၏။-အာရော်မြို့များကို
စွန့်ပြစ်ထားကြောင့်၊ သိုးနွားတို့သည်ပိုင်၍၊ အ
၃ ထယ်သူမျှ မမောင်းသဲ ဖိပ်ကြ လိမ့်မည်။- ဧဖ
ရိမ်ပြည်၌ မြို့မရှိရ။ ဒမာသက်မြို့နှင့် ကျန်ကြွင်း
သောရှုရိပြည်၌မင်းအာဏာမရှိရ၊ သူတို့သည်
ဣသရေလအမျိုးသားတို့၏ဘုန်းအသရေကဲ့သို့
ဖြစ်ရကြ လိမ့်မည်ဟု၊ ကောင်းကင် ဗိုလ်ခြေအ
ရှင်ထာဝရဘုရားမိန့်တော်မူ၏။
၄ ထိုကာ လ၌ ယာကုပ် အ မျိုး၏ ဘုန်း သည်
လျော့၍၊ ဆုဝ ခြင်း လည်း ဒိန် ကျုံ ခြင်း ဖြစ်ရ
၅ လိမ့်မည်။- လူသည် စပါးကို ရိတ်းထုံ၍ အသီး
အနှံ များကိုလက်နှင့် ရိတ်သကဲ့သို့၎င်း၊ ရေဖိမ်
ချိုင့်၌ အသီးအနှံအညိုကိုသိမ်းရိတ်သကဲ့သို့၎င်း၊
၆ ထိုအမှုဖြစ်ရလိမ့်မည်။- သို့ရာတွင်၊ သံလွင်ပင်
တို လှုပ်ပြီးမှအပင်ဖျား၌အသီးနှစ်လုံးသုံးလုံး၊
အသီးကောင်းသော အခက်တို့၌ လေးငါးလုံးမျှ
တတ်သကဲ့သို့၊ ကောက်သိမ်း စရာ အကြွင်းရှိရ
လိမ့်မည်ဟု၊ ဣသရေလ အမျိုး၏ ဘုရား သခင်
ထာဝရဘုရားမိန့်တော်မူ၏။
၇ ထိုကာလ၌ လူ သည် မိမိကို ဖန်ဆင်း တော် မူ
သောအရှင်ကို ရည်မှတ်၍၊ ဣသရေလအမျိုး၌
သန့် ရှင်းတော်မူသော ဘုရားကို ဖူးမျှော် ရလိမ့်
၈ မည်။-မိမိလက်နှင့်လုပ်သော ယဇ်ပလ္လင်တို့ကို
မမှတ်ရ။ မိမိ လက် ချောင်းနှင့် လုပ်သော အရာ
တည်းဟူသော အာရှရ ပင်တို့ကို၎င်း၊ ရုပ်တုတို့
၉ ကို၎င်း ပမာဏ မပြုရ။- ထို ကာ လ၌ သူ၏ ခိုင်ခံ့
သောမြို့တို့သည် ဣသရေလ အမျိုးသား ရှေ့မှာ
စွန့်ပြစ်သော သစ်တောအကျန်အကြွင်းနှင့်သစ်
ပင် အဖျားကဲ့သို့ ဖြစ်၍၊ ထိုပြည်သည် ဆိတ်ညံ
၁၀ လျက်ရှိရလိမ့်မည်။- သင့်ကို ကယ်တင်တော် မူ
သော ဘုရား သခင်ကို သင်သည် မေ့ လျော့၍၊
မိမိ ခိုလှုံရာ ကျောက်ကို မိမိမအောင်း မေ့သော
ကြောင့်၊ သာယာသော ပျိုးပင်တို့နှင့်၊ တကျွန်း
၁၁ တနိုင်ငံအညွန့်တို့ကို စိုက်ပျိုး၍၊- ထိုပျိုးပင်တို့
ကိုကြီးပွားစေခြင်း၄ါ၎င်း၊ အလျင်အမြန်အ ပွင့်
ပွင့်စေခြင်း၄ါ၎င်း ပြုပြီးမှ၊ သိမ်းယူရာကာလ၌
အသီးအနှံသည်ပျက်စီး၍၊သင်သည်မျှော်လင့်
နိုင်သောဝမ်းနည်းခြင်းရှိရလိမ့်မည်။
၁၂ အမှုဗျာ မြည် သံကဲ့သို့ မြည် တတ် သော လူ
များ အလုံးအရင်းတို့၌၎င်း၊ အားကြီးသော ရေ
တို့သည် ထုန်းသကဲ့သို့ ထုန်းတတ်သော လူမျိုး
၁၃ တို့၌၎င်း အမင်္ဂလာရှိ၏။- အားကြီးသော ရေတို

သည့် ထုန်း သကဲ့သို့၊ လူ မျိုး ဆိုထည် ထုန်းကြ
တော်ထည်း၊ ရေ့ခြေတော် မူသော့ကြောင့်၊ အဝေး
သို့ ပြေးသွားကြလိမ့်မည်. တောင်ပေါ်မှာလေ
တိုက်၍ လွင့်သော ဖွဲ ကဲ့ သို့၎င်း၊ လေဘွေ၌ ပါ
သွားသော အမှိုက်ကဲ့သို့၎င်း၊ သူတို့သည် နှင်ခြင်း
၁၄ ကိုခံရကြလိမ့်မည်။- ညဦးယံ၌ဘေးရောက်၍၊
နံနက်ယံ မတိုင်မှီပျောက်ရှာကြလိမ့်မည်။ ငါတို့
ကိုလုယည်း ဆဲသော သူတို့သည် ထိုသို့ သော အ
ကျိုး၊ ငါတို့ကိုလုယူဖျက်ဆီးသော သူတို့သည်၊
ထိုသို့သော အဖွဲ့ဥစ္စာကိုခံရကြလိမ့်မည်။

၁၈

၁ အဲသယောပိ မြစ် ရှား အနား မှာ အသံ မြည်
၂ ထက်သော အတောင် ရှိ၍၊- ပင်ထယ်ထမ်း၊ဖြင့်
၎င်း၊ရေပေါ်၌ ဂမာလှေဖြင့်၎င်း၊ သံတမန်တို့ကို
လွှတ်တတ်သောပြည်၊ နား၊ထောင်လော့၊ မိုင်မာ
ခြင်း၊ ထန်လျက်ရှေ့ဦး၊ နောက်မှစ၍ ယခုတိုင်အောင်၊
ကြောက်မက်ဖွယ်ဖြစ်ထသော၊ ခွန်အားကြီး၍
နှိပ်နင်းတတ်ထသော၊ မြစ်ကွဲပြားသော မြေ၌နေ
သောလူမျိုး၊ ထံသို့လျှင်မြန်သော တမန်တို့၊ သွား
၃ ကြလော့။- လောကီနိုင်ငံ၌နေသောမြေကြီးသား
အပေါင်းတို့၊ တောင်ပေါ်မှာ အထံကိုထူသော အ
ခါ ကြည့်ရှုကြလော့။ တံပိုး မှုတ်သော အခါ နား
၄ ထောင်ကြလော့။- ထာဝရဘုရားသည် ငါအား
မိန့်တော်မူသည်ကား၊ နေအရောင်ထဲမှာ ကြည်
ထင်သော အရှိန်ကဲ့သို့၎င်း၊ အသီး အနှံ ကို သိမ်း
လှီရာပူသောကာလ၌နှင်း၊ နှင့်ပြည့်စုံသော မိုဃ်း
တိမ် ကဲ့သို့၎င်း၊ ငါသည်ကျိန်း ဝပ်၍ နေရာအ
၅ ရပ်မှာကြည့်ရှုမည်။- စပျစ်သီးကို သိမ်း ယူရာ
ကာလ မတိုင်မှီ အငုံ စေ့စုံ၍၊ အပွင့်လည်း ထုံး
သော အသီး ဖြစ်စည်အခါ၊ အညွန့်များ ကိုတံစည်
နှင့်ဖြတ်၍၊ အခက် အလက် များကို သုတ်သင်
၆ ပယ်ရှင်းတော်မူမည်။-သူတို့သည်တောင်ပေါ်မှာ
နေတတ်သောငှက်များ၊ တောသားရဲ များတို့၏
အမှီဖြစ်၍၊ ငှက်တို့သည် နွေကာလ၌၎င်း၊ သား
ရဲ အပေါင်း တို့သည် ဆောင်းကာလ၌၎င်း၊ သူတို့
၇ အပေါ်မှာနေကြလိမ့်မည်။- ထိုအခါ မိုင်မာ ပြင်း
ထန် လျက် ရှေ့ဦး၊ နောက်မှ စ၍ ယခု တိုင် အောင်၊
ကြောက်မက်ဖွယ်ဖြစ်ထသော၊ ခွန်အားကြီး၍
နှိပ်နင်းတတ်ထသော၊ မြစ်များ ကွဲပြားသော မြေ
၌နေသောလူမျိုး သည်၊ ကောင်းကင် ဗိုလ်ခြေ အ
ရှင် ထာဝရဘုရား၏ နာမတော် တည်ရာ ဇိအုန်
တောင်သို့၊ ကောင်းကင်ဗိုလ်ခြေ အရှင် ထာဝရ
ဘုရားထံသို့ လက်ဆောင်ပဏ္ဏာကိုဆောင်ခဲ့ကြလိမ့်
သတည်း။

၁၉

၁ အဲဂုတ္တုပြည် နှင့် ဆိုင် သော ဗျာဒိတ် တော်
ကား၊ ကြည့်ရှုလော့၊ ထာဝရဘုရားသည်လျှင်
မြန်သော မိုဃ်းတိမ်ကို စီး၍ အဲဂုတ္တုပြည် သို့
ကြွတော်မူ၏။ ရှေ့တော်၌ အဲဂုတ္တုပြည်၏ရုပ်တု
ဆင်းတုတို့သည်လှုပ်ရှား၍၊ အဲဂုတ္တုပြည်၏ နှ
လုံးသည်သူ၏ အထဲမှာအရည်ကြိုလျက် ရှိလိမ့်
၂ မည်။- အဲဂုတ္တုပြည်သား တို့သည်အချင်းချင်း
တယောက်နှင့် တယောက် ရန် ပြုစေ ခြင်းငှါ ငါ
နှိုးဆော် သဖြင့်၊ သူတို့သည် ညီအစ်ကိုချင်း တ
ယောက်နှင့်တယောက်၊ အိမ်နီးချင်း တယောက်
နှင့်တယောက်၊ တမြို့နှင့်တမြို့၊ တနိုင်ငံနှင့်တနိုင်
၃ ငံ၊ စစ်တိုက်ကြလိမ့်မည်။- အဲဂုတ္တုပြည်၏ စိတ်
သည် သူ၏ အထဲမှာ ပျက်လိမ့်မည်။ သူ၏ အကြံ
ကိုလည်း ငါဖျက်မည်။ သူတို့သည်ရုပ်တုတို့၌၎င်း၊
ပြုစားသောသူတို့၌၎င်း၊ နတ်ဝင်နှင့် စုန်း တို့၌၎င်း
၄ ဆည်းကပ်ကြလိမ့်မည်။-အဲဂုတ္တုပြည်သားတို့
ကို ကြမ်းကြုတ်သော သခင်တို့ထက်သို့ ငါအပ်
သဖြင့်၊ ပြင်းထန်သောရှင်ဘုရင်တပါး သခင်ပြု
စိုးထိမ့်မည်ဟု၊ ကောင်းကင် ဗိုလ်ခြေ သခင် အဲ
၅ ရှင် ထာဝရဘုရား မိန့်တော်မူ၏။- ထိုအခါပင်
လယ်ရေပြတ်လိမ့်မည်။ မြစ်ရေထည်း လျော့၍
၆ ခန်း ခြောက်လိမ့်မည်။- ချောင်းရေ များထည်း
ဝုပ်ကြလိမ့် မည်။ အဲဂုတ္တုမြစ် ထက်ကြား ထို့
ထည်း ရေပြတ်၍ ခန်းခြောက်သဖြင့်၊ ကျူပင်နှင့်
၇ ကိုင်းပင်တို့သည် ညှိုးနွမ်း ကြလိမ့်မည်။- မြစ်
ထက်ကြားနား နှင့် ချောင်းဝနားမှာပေါက်သော
မြက်ပင် အစ ရှိသော၊ မြစ် နားမှာ စိုက်သမျှ တို့
သည် ညှိုးနွမ်း၊ ပျက်စီး ပပျောက်ကြလိမ့်မည်။-
၈ တံငါတို့သည် ညည်းတွား ကြလိမ့်မည်။ မြစ်၌
ငါးမျှားကိုချသမျှသောသူတို့သည်မြည်တမ်း၍
ရေပေါ်မှာ ပိုက်ကွန်ကို ဖြန့် တတ် သော သူတို့
၉ သည်ငိုမိတ်ပျက်ကြလိမ့်မည်။-ပိုက်ဆန်လုပ်သော
သူနှင့်ဇာမျိုး၊ ကိုရက်သောသူတို့သည် ထည်း အ
၁၀ ကျိုးနည်း၊ ရှိကြလိမ့်မည်။- အမှီတကဲ တို့သည်
ပျက်၍၊ အခစားသောသူအပေါင်းတို့သည်ညှိုး
ငယ်သောစိတ်ရှိကြလိမ့်မည်။

၁၁ အကယ်စင်စစ် ဇောနမင်းတို့သည် အရူးဖြစ်
ကြ၏။ ဖာရောဘုရင်၏ တိုင်ပင်မှူးမတ် တို့သည်
မိုက်သော အကြံကိုပေးကြ၏။ ထွန်တော်ထည်

ပညာရှိအမျိုး၊ ရှေးရှင်ဘုရင်တို့အနွယ်ဖြစ်ပါ
သည်ဟု၊ ဖါရောဘုရင်အား အဘယ် ကြောင့်
၁၂ လျှောက်ကြသနည်း။-သူတို့သည်အဘယ်မှာရှိ
ကြသနည်း၊သင်၏ပညာရှိတို့သည်အဘယ်မှာ
ရှိကြသနည်း။ ကောင်းကင်ဗိုလ်ခြေ အရှင် ထာ
ဝရ ဘုရား သည်၊ အဲဂုတ္တု ပြည် တဖက် ၌၊ အ
ဘယ်သို့ ကြံစည် တော်မူ သည်ကို ယခု ပြောကြ
၁၃ ပါစေ၊ သိပြကြပါစေ။- ဇောနမင်းတို့သည်အ
ရူးဖြစ်ကြပြီ၊ နောဖမင်းတို့သည် မှားယွင်းကြ
ပြီ၊ အဲဂုတ္တုပြည်၏ အမျိုးအနွယ်များကို ထုပ်
သောအကြီး အကဲတို့ကိုလည်း မှားယွင်း စေကြ
၁၄ ပြီ။- ထာဝရဘုရားသည် အဲဂုတ္တု ပြည်၏ အ
ထယ်၌ ယစ်မူးသောသဘောကို ပွင့်ဆင်တော်မူ
သဖြင့်၊ ယစ်မူးသောသူသည်မိမိအန်ဖတ်၌ထဲသ
ကဲ့သို့၊ အဲဂုတ္တုပြည်သားတို့သည် ပြုလေသမျှ
၁၅ တို့၌မှားယွင်းကြပြီ။-အဲဂုတ္တုပြည်၏ဦးခေါင်း
ဖြစ်စေ၊ အမြီး ဖြစ်စေ၊ စွန်ပလွံ့ သက် ဖြစ် စေ၊
ကိုင်းပင် ဖြစ်စေ၊ ပြီးစီး နိုင်သော အမှု အလျှင်း
၁၆ မရှိရ။- ထိုကာလ၌ အဲဂုတ္တုလူတို့သည် မိန်းမကဲ့
သို့ဖြစ်၍၊ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ
ဘုရားသည် သူတို့အပေါ်မှာလက်တော်ကိုလှုပ်
ရှားတော် မူ သောကြောင့်၊ ကြောက် လန့် တုန်
၁၇ လှုပ်ကြလိမ့်မည်။- ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရားသည် အဲဂုတ္တုပြည်တဖက်၌ ကြံ
စည် တော် မူသော အကြံ အစည်ကြောင့်၊ ယုဒ
ပြည်သည်ထည်း အဲဂုတ္တုပြည်၌ကြောက်မက်
ဖွယ် ဖြစ်လိမ့်မည်၊ ယုဒပြည်ဟူ၍ ပြောကာမျှ
နှင့်လူတိုင်းကြောက်ရွံ့ကြလိမ့်မည်။
၁၈ ထိုကာလ ၌ အဲဂုတ္တု ပြည်တွင်၊ မြို့ငါးမြို့တို့
သည်ခါနာန်ဘာသာစကားကိုပြော၍၊ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရား၏ သစ္စာတော်
ကိုခံကြလိမ့်မည်။ ထိုမြို့ တို့တွင်၊ တမြို့ကို သုမိ
၁၉ ယာမြို့ဟူ၍ခေါ်ဝေါ်ကြလိမ့်မည်။-ထိုကာလ၌
အဲဂုတ္တုပြည် အလယ် တွင်၊ ထာဝရဘုရားကို
ပူဇော်ရာယဇ်ပလ္လင်ရှိလိမ့်မည်၊ပြည်စွန်းနား
တွင်ထည်း ထာဝရ ဘုရား အမှတ်တိုင်ရှိလိမ့်
၂၀ မည်။- ထိုမှတ်တိုင် သည် အဲဂုတ္တုပြည် တွင်နိ
မိတ်သက်သေ ဖြစ်လိမ့်မည်၊ ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရား၏ သက်သေလည်းဖြစ်
လိမ့်မည်၊ အကြောင်းမူကား၊သူတို့သည်ညှဉ်း
ဆဲခြင်းကို ခံရသောကြောင့်၊ ထာဝရ ဘုရားကို
အော်ဟစ်ကြသည်ရှိသော်၊ ကယ်တင်သောအ
ရှင်၊ အမှုဆောင်သခင်ကို သူတို့ရှိရာသို့စေလွှတ်
တော်မူ၍၊ ထိုသခင်သည်ကယ်တင်တော်မူ၏။-
၂၁ အဲဂုတ္တုပြည် တွင် ထာဝရ ဘုရားကို သိရ ကြ
သည် ဖြစ်၍၊ ထိုကာ လ၌ အဲဂုတ္တု လူတို့ သည်
ထာဝရဘုရားကိုသိသောကြောင့်၊ပူဇော်သက္ကာ
အလှူဒါနကို ဆက်ကပ်၍ ဝတ် ပြုကြ လိမ့်မည်၊
ထာ ဝရ ဘုရား ရှေ့ တော်၌ သစ္စာ ဂတိ ထား ၍၊
၂၂ ထားသည် အတိုင်း ပြုကြ လိမ့်မည်။- ထာဝရ
ဘုရားသည်လည်း အဲဂုတ္တုပြည်ကို ဒဏ်ခတ်
၍၊ ခတ်ပြီးသောဒဏ်ရာကို ပျောက်စေတော်မူ
မည်၊ သူတို့သည်ထည်း၊ ထာဝရဘုရားထံတော်
သို့ပြောင်းလဲကြသည်ကာလ၊ သူတို့တောင်းပန်
ခြင်း ကို နား ထောင် ၍ ဒဏ် ရာကို ပျောက် စေ
တော်မူမည်။
၂၃ ထိုကာလ၌အဲဂုတ္တုပြည်မှသည်အာရှုရိပြည်
တိုင်အောင်၊ လမ်း တွင် လိမ့် မည်၊ အာရှုရိ လူ
ထည် အဲဂုတ္တု ပြည် သို့ ၎င်း၊ အဲဂုတ္တု လူသည်
အာရှုရိပြည်သို့၎င်းသွားလာ၍ အဲဂုတ္တုလူနှင့်
အာရှုရိလူတို့သည်တညီတညွတ်တည်းဝတ်ပြု
၂၄ ကြလိမ့်မည်။- ထိုကာ လ၌ ဣသရေလ အမျိုး
သည် အဲဂုတ္တုအမျိုးနှင့်၎င်း၊ အာရှုရိ အမျိုးနှင့်
၎င်း ပေါင်း၍၊ တတိယ အမျိုးတည်း ဟူသော၊
မြေကြီး အလယ်၌ မင်္ဂလာ ပြု သော အမျိုး ဖြစ်
၂၅ လိမ့်မည်။- ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား ကထည်း၊ ငါ၏လူ အဲဂုတ္တု အမျိုး၊ ငါပြု
ပြင်သော အာရှုရိအမျိုး၊ ငါ၏ အမွေ ဥစ္စာဖြစ်
သော ဣသရေလ အမျိုး သည် မင်္ဂလာ ရှိစေသ
တည်းဟု၊ ကောင်းကြီးပေးတော်မူလိမ့်မည်။

၂၀

၁ အာရှုရိရှင်ဘုရင်သာဂုန် စေလွှတ်သောဗိုလ်
မင်းတာတန်သည် အာဇုတ်မြို့သို့စစ်ချီ၍၊ ထိုမြို့
၂ ကို လုပ်ကြံသော နှစ်တွင်။- ထာဝရ ဘုရားက၊
သင်သည် သွား ၍ ခါးစည်းသော လျှော်တေအ
ဝတ်နှင့်ခြေနင်းကိုချွတ်လော့ဟု၊ အာမုတ်သား
ယေရှာယကိုမိန့်တော်မူသည်အတိုင်း၊သူသည်
ပြု၍ အဝတ်ကိုမဝတ်၊ ခြေ နင်း ကို မစီးဘဲသွား
၃ လာလျက် နေ၏။- ထာဝရ ဘုရား ကထည်း။ ငါ
ကျွန်ယေရှာယသည် အဲဂုတ္တုပြည်နှင့်ကုရှပြည်၌
ပုပ္ပနိမိတ်၊ ထူးဆန်းသောအရာကိုပြခြင်းငှါ၊ သုံး
နှစ်ပတ်လုံးအဝတ်ကိုမဝတ်၊ ခြေနင်းကိုမစီးဘဲ
၄ သွားလာသကဲ့သို့၊- ထိုနည်းတူ၊ အဲဂုတ္တုလူများ
ကို၊ အရှက် ခွဲခြင်း အလို ငှါ၊ အာရှုရိ ရှင်ဘုရင်

သညီအဲဂုတ္တုလူနှင့်ကုရှလူအကြီးအငယ်တို့အား
အဝတ်နှင့် ခြေနင်းကို ချွတ်၍၊ တင်ပါးကိုမျှ မဖုံး
စေဘဲ၊ ဖမ်းဆီးချုပ်ထား သိမ်းသွားလိမ့်မည်။-
၅ အာရှုတ်မြို့သားတို့သည်ကြောက်ကြလိမ့်မည်။
သူတို့ ကိုးစားသော ကုရှ ပြည်ကိုငှင်၊ ဝါကြွား
သော အဲဂုတ္တုပြည်ကို ငှင် ရှက်ကြလိမ့် မည်။-
၆ ထိုကမ်းနားမှာနေသောသူများကလည်း၊ကြည့်
ပါ၊ အာရှုရိရှင်ဘုရင်၏လက်မှလွတ်မြင်း၍ ငါ
တို့မျှော်သင့်ရာအရာ၊ပြေး၍ခိုလှုံရာ အရာသည်
ထိုသို့ ဖြစ်ပါသည်တကား။ ငါတို့သည်အဘယ်
သို့လွတ်နိုင်ပါမည်နည်းဟု၊ ထိုအခါ ဆိုကြလိမ့်
မည်။

၂၁

၁ ရေလွှမ်းမိုးသောတောနှင့် ဆိုင်သောဗျာဒိတ်
တော်ကား၊ တောင်လေဗုန်တိုက်သကဲ့သို့၊
ကြောက်မက် ဖွယ်သောပြည်၊ တောကြီးမှထာ
၂ ၏။- ကြောက်မက် ဖွယ်သောရူပါရုံကိုငါမြင်ရ
၏၊ လုယူတတ်သောသူသည်လုယူ၏၊ ဖျက်ဆီး
တတ်သောသူသည်ဖျက်ဆီး၏၊ ဧလံပြည်သား
တို့၊တက်သွားကြလော့၊ မေဒိပြည်သားတို့၊ မြို့
ကိုဝိုင်းထား ကြလော့၊ ထိုမြို့ကြောင့်၊ သူတပါး
ညည်းတွားခြင်းရှိသမျှကိုငါငြိမ်းစေ၏။
၃ ထိုကြောင့်၊ ငါသည် ခါးနာ လှ၏၊ သားဖွား
သော မိန်းမ ခံရသကဲ့သို့ ဝေဒနာကို ခံရ၏၊ နား မ
ကြားနိုင်အောင်ပြင်းထန်စွာခံရ၏၊မျက်စိမမြင်
၄ နိုင်အောင် မိုက်တွေလျက် မှိုင်၏။- ငါ စိတ် နှစ်လုံး
သည်မှုးလျက်ရှိ၏၊ ကြောက်မက်ဖွယ်သောအ
ရာဖြင့်ငါသည်ထိတ်လန့်လျက်ရှိ၏၊ ငါမျှော်ရွှေ့
၅ သောညဉ့်ကိုဘေးနှင့်ပြည့်စုံစေတော်မူ၏။-စား
ပွဲကိုပြင်ပြီ၊ ကင်းစောင့်ကိုထားပြီ၊ စားသောက်
လျက်နေကြ၏၊ ဗိုလ်မင်းများတို့၊ ထကြ၊ လွှားကို
ဆီလောင်းကြ။- အကြောင်းမူကား၊ ဘုရားရှင်
က၊ သင်သွား၍ ကင်းစောင့်ကိုထားလော့၊ မြင်
သည်အတိုင်းပြောစေလော့ဟု၊ ငါ့အားမိန့်တော်
၇ မူ၏။-ကင်းစောင့် သည်လည်း၊ နှစ်စီးစီ နှစ်စီးစီ
ရှိထားသောမြင်းတပ်တတပ်၊ မြည်းတပ်တတပ်၊ကု
လားအုတ်တပ်တတပ်ကိုမြင်၍၊ သတိနှင့်စေ့စေ့
၈ ကြည့်ရှုနားထောင်ပြီးလျှင်၊- သခင်၊ ကျွန်တော်
သည်နေ့အချိန်၌ ကင်းမျှော်စင်ပေါ်မှာ အစဉ်
ရပ်၍၊ တညဉ့်သုံး၌ ထည်း ကင်း စောင့် လျက်
၉ နေပါ၏။- ယခုမှာ နှစ်စီးစီ နှစ်စီးစီ ရှိလာသော
မြင်းစီးသူရဲတပ်ကိုမြင်ပါသည်ဟု၊ ခြင်သေ့ကဲ့
သို့ကျွေးကြော်၏၊ သူကလည်း၊ ဗာဗုလုန်မြို့
ထဲပြီ၊ပြိုလဲပြီ၊ သူ၏ဘုရားရုပ်တုဆင်းတုရှိသမျှ
တို့သည်၊မြေပေါ်မှာကျိုးပဲ့လျက်ရှိကြပါသည်
၁၀ ဟုထပ်၍ဆိုလေ၏။- ငါနင်းနယ်၍ ငါ တ ထင်း
ပြင်မှ ထွက်သောစပါး၊ ကောင်းကင် ဗိုလ်ခြေ အ
ရှင် ထာဝရဘုရား၊ ဣသရေလ အမျိုး၏ ဘုရား
သခင် မိန့်တော် မူသည် ကို ငါ ကြားရသည် အ
တိုင်း၊သင်တို့အားငါဆင့်ဆိုသတည်း။
၁၁ ဒုမာပြည် နှင့် ဆိုင်သော ဗျာ ဒိတ်တော် ကား၊
အိုကင်းစောင့်၊ညဉ့်အမှုကားအဘယ်သို့နည်း။
အိုကင်းစောင့်၊ညဉ့်အမှုကားအဘယ်သို့နည်း၊
၁၂ ဟု၊စိရတောင်ပေါ်ကငါ့ကိုဟစ်ခေါ်လေ၏။-ကင်း
စောင့်ကထည်း၊နံနက်အချိန်လာ၏၊ညဉ့်လည်း
လာ၏၊ သင်တို့သည် မေးမြန်းလိုလျှင် မေးမြန်း
ကြ၊ပြန်သွားကြ၊တဖန်လာကြဟု ဆိုလေ၏။
၁၃ အာရပ်ပြည်နှင့်ဆိုင်သောဗျာဒိတ်တော်ကား၊
ခရီးသွားသောဒေဒန်လူစုတို့၊ သင်တို့သည်အာ
၁၄ ရပ်တောမှာညဉ့်ကိုလွန်စေရကြမည်။- တေမ
ပြည်သားတို့၊ရေငတ်သောသူအား ရေကိုယူခဲ့ကြ
၁၅ ၏၊ ပြေးသောသူကို မုန့်နှင့်ဆီး၍ကြိုကြ၏။- အ
ကြောင်းမူကား၊ သူတို့ သည် ထားဘေးမှ၎င်း၊
ထုတ်သောထား၊ တင်သော လေး၊ ပြင်းထန်ခက်
သောစစ်မှုမှ၎င်းပြေးကြ၏။-ထာဝရဘုရားသည်
ငါ့အားမိန့်တော် မူသည်ကား၊ အခစားသောသူ
ရေတွက်သည် အတိုင်း၊ တနှစ်တွင် ကေဒါ မြို့၏
၁၇ ဘုန်းအသရေ ရှိ သမျှ ကွယ် ပျောက်၍၊- ကျန်
ကြွင်းသော ကေဒါ အမျိုးသား၊ လေးရှဲ့ သူရဲတို့
သည်အလွန် နည်းကြ လိမ့်မည်ဟု၊ ဣသရေလ
အမျိုး၏ ဘုရား သခင် ထာဝရ ဘုရားမိန့်တော်
မူ၏။

၂၂

၁ ဗျာဒိတ်ရူပါရုံချိုင့်နှင့်ဆိုင်သောဗျာဒိတ်တော်
ကား၊သင့်တမြို့လုံးသည် အိမ်မိုးပေါ်သို့တက်ရ
မည်အကြောင်း၊အဘယ်အမှုရောက်သနည်း။-
၂ အထက်က အသံဗလံ များ၍ ရုတ်ရုတ် ကျက်
ကျက်ပြုတတ်သောမြို့၊ ရွှင်လန်းသောမြို့၊ သင်၏
လူသေတို့သည် ထား ထက်နက်ကြောင့် ဆုံးကြ
သည် မဟုတ်၊ စစ်တိုက် ရာမှာ သေ ကြ သည်မ
၃ ဟုတ်။- သင်၏ မှူးမတ်အပေါင်းတို့သည်အတူပြေး
ကြ၏၊လေးသမားတို့ယက်၌ ချည်နှောင်လျက်ရှိ
ကြ၏၊ တွေ့သမျှသော သင်၏ လူတို့သည် အဝေး
သို့ ပြေး သော်လည်း၊ အတူချည်နှောင် လျက် ရှိ

၄ ကြ၏။-ထိုကြောင့်ငါဆိုသည်ကား၊ ငါ့ကိုမကြည့်
ပါနှင့်၊ ငြိမ်းစွာငိုရမည်။ ငါ့အမျိုးသတို့သမီးဖျက်
စီးသည်ဖြစ်၍၊ ငါ့စိတ်ပြေစေခြင်းငှါ မကြိုးစား
၅ ပါနှင့်။- ကောင်းကင်ဗိုလ်ခြေသခင် အရှင်ထာ
ဝရဘုရားသည်၊ ဗျာဒိတ်ရူပါရုံ ချိုင့်တွင် စီရင်
တော်မူသဖြင့်၊ ဗုန်းဗုန်းရာကာလ၊ နှိပ်စက် နှောင့်
ယှက်ရာကာလ၊ မြို့ရိုးကိုဖြိုဖျက်၍တောင်ထိပ်ကို အော်
၆ ဟစ်ရာကာလသည်ရောက်လေပြီ။- ဧလံအမျိုး
သည် မြားတောင့်ကိုဆောင်လျက်၊ ရထားစီးသူ
ရဲ၊ မြင်းစီးသူရဲ တို့နှင့်တကွ လာ၏။ ကိရအမျိုး
၇ သည်ဒိုင်းလွှားကိုထုတ်လေ၏။-သင်၏ အမြတ်
ဆုံးသောချိုင့်တို့သည်ရထားနှင့်ပြည့်ကြ၏။မြင်း
စီးသူရဲတို့သည် မြို့တံခါးရှေ့မှာ တပ်ချကြ၏။-
၈ ယုဒပြည်ကို ဖွင့်လှစ်သည်ဖြစ်၍၊ သင်သည်ထို
အခါထက်နက်စုံသိုထားရာ၊ တောနန်းတော်သို့
၉ ကြည့်ရှုလိမ့်မည်။- ဒါဝိဒ်၏မြို့အပြိုအပျက်များ
သည်ကိုသင်၏ လူတို့သည် မှတ်ရကြလိမ့်မည်။
အောက်ရေကန်မှထွက်သောရေကိုစုဝေးစေကြ
၁၀ လိမ့်မည်။-ယေရုရှလင်မြို့၌ရှိသောအိမ်များကို
ရေတွက်ကြလိမ့်မည်။ မြို့ရိုးကိုပြုပြင် လိုသော
၁၁ ငှါ၊ အိမ်များကို ဖြိုဖျက်ကြလိမ့်မည်။- ရေကန်
ဟောင်းမှထွက်သောရေစုဝေးရာကိုထည်း၊ မြို့
ရိုးနှစ်ထပ် စပ်ကြားတွင် ထုပ်ကြလိမ့်မည်။ သို့
ရာတွင်၊ ဤအမှုကို စီရင်တော်မူသောသူကို သင်
တို့သည် မကြည့် မမှတ် တတ်ကြ။ ရှေးကပင်
ဆင်းတော်မူသောသူကို ပမာဏမပြုတတ်ကြ။-
၁၂ ထိုကာလ၌ငိုကြွေးမြည်တမ်းခြင်း၊ ဆံပင်ကိုပယ်
ဖြတ်ခြင်း၊ လျှော်တေအဝတ်ကို ဝတ်စည်းခြင်း
အလိုငှါ၊ ကောင်းကင်ဗိုလ်ခြေသခင် အရှင်ထာ
ဝရဘုရား သည် နှိုးဆော် တိုက်တွန်း တော်မူ
၁၃ သော်လည်း၊- ကြည့်ပါ၊ ဝမ်းမြောက်ရွှင်လန်း
ခြင်း၊ အမှု၊ သိုးနွားများကို သတ်ခြင်း၊ အမဲသား
စားခြင်း၊ စပျစ်ရည် သောက်ခြင်း အမှုကို ပြု
လျက်၊ ငါတို့သည်စားကြ ကုန်အံ့၊ သောက် ကြ
ကုန်အံ့၊ နက်ဖန် သေရ ကြ မည်ဟု ပြောဆိုကြ
၁၄ သည်တကား။- ကောင်းကင်ဗိုလ်ခြေအရှင် ထာ
ဝရဘုရားသည်ငါ့နား၌ ဗျာဒိတ်ပေးတော်မူသည်
ကား၊ အကယ်စင်စစ်သင်တို့အပြစ်သည်သင်တို့
မသေမချင်းတိုင်အောင်မပြေမရှင်းရ ယူ၊ ကောင်း
ကင် ဗိုလ် ခြေ သခင် အရှင် ထာဝရ ဘုရား မိန့်
တော်မူ၏။
၁၅ ကောင်းကင် ဗိုလ်ခြေ သခင် အရှင် ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ထဘ္ဍာတော်ပိုး၊
၁၆ နန်းတော်အုပ်ရှေဗနထံသို့သွား၍ပြောလျှင်၊-မြင့်
သောအရပ်၌ကိုယ်သင်းချိုင်းတွင်းကိုတွင်း၍၊
ကိုယ်နေရာကို ကျောက်၌ထုလုပ်သောသူ၊ သင်
သည် ဤအရပ်၌ သင်းချိုင်းတွင်းကို ကိုယ်အဖို့
တွင်းစေခြင်းငှါ၊ ဤအရပ်နှင့် အဘယ်သို့ ဆိုင်
သနည်း။ ဤ အရပ်သား တို့တွင် အဘယ်သူနှင့်
၁၇ ဆိုင်သနည်း။ ထာဝရဘုရားသည်ပြင်းစွာသော
နှင်ထုတ်ခြင်းဖြင့်၊ သင့်ကို နှင်ထုတ်တော်မူလိမ့်
၁၈ မည်။သင့်ကိုအမှန်ကိုင်ဝမ်း၍၊-တလိမ့်လိမ့်လှိမ့်
လျက်၊ ဘောက်ဘွဲ့ကဲ့သို့ ကျယ်သောပြည်သို့
ပြစ်လိုက်တော်မူလိမ့်မည်။ သင်သည် ထိုပြည်၌
သေရလိမ့်မည်။ ထိုပြည်၌လည်းသင်၏ကျက်သ
ရေရထား၊ သို့သည်၊ သင့်အရှင်၏ အမျိုးအမှတ်
၁၉ ကွဲစရာဖြစ်ရကြလိမ့်မည်၊-ငါသည်လည်းသင်၏
အရာကိုနှုတ်မည်။သင်၏နေရာမှသင့်ကိုချမည်။-
၂၀ ထိုကာလ၌ငါ့ကျွန်၊ ဟိလခိ၏သားဧလျာကိမ်ကို
၂၁ ငါခေါ်၍၊- သင်၏ ဝတ်လုံနှင့် ဝတ်ဆင်စေမည်။
သင်၏ခါးစည်းနှင့် ခိုင်းမြဲ၍၊ သင်၏အစိုးရ
သော အခွင့်ကို အပ်ပြီးလျှင်၊ သူသည် ယေရုရှ
လင်မြို့သူ၊ ယုဒ အမျိုး သားတို့၏ အဖ ဖြစ်လိမ့်
၂၂ မည်၊- ဒါဝိဒ်မင်းမျိုး၏ တံခါးသော့ကိုသူ၏ပခုံး
ပေါ်မှာငါတင်ထားသဖြင့်၊ သူသည်အဘယ်သူ
မျှမပိတ်နိုင်အောင်ဖွင့်လိမ့်မည်။ အဘယ်သူမျှ
၂၃ မဖွင့်နိုင်အောင်ပိတ်လိမ့်မည်။- မြဲသောအရပ်
၌စွဲသောတံမှိုကဲ့သို့သူကိုငါစွဲစေမည်။ သူသည်
မိမိအဖ၏အိမ်၌ ကျက်သရေပဏ္ဍင် ဖြစ်လိမ့်
၂၄ မည်။- သူ၏ အဖ အိမ်၌ ရှိသမျှ သော ဘုန်းအ
သရေ၊ အမျိုးအနွယ်၊ အမြတ်အယုတ်၊ ခွက်
ဖလားရှိသမျှ၊ အင်တုံ၊ အိုးအမျိုးမျိုးတို့ကိုသူ၌
၂၅ ဆွဲထားကြလိမ့်မည်။- ကောင်းကင်ဗိုလ်ခြေအ
ရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုကာ
လတွင်မြဲသောအရပ်၌ အရင်စွဲသောတံမှိုသည်
နေရာမှရွေ့၍၊ ရုတ်လှည်းခြင်းကို ခံရလိမ့်မည်။
သူ၌ဆွဲထားသော ဝန်စာသည်လည်း၊ ရုတ်ပယ်
ခြင်းကိုခံရလိမ့်မည်ဟု၊ ထာဝရဘုရားမိန့်တော်
မူ၏။

၂၃

၁ တုရုမြို့နှင့်ဆိုင်သောဗျာဒိတ်တော်ကား၊ တာရှု
သင်္ဘောများတို့၊ ညည်းတွားမြည်တမ်းကြလော့။
မြို့သည် အိမ်မရှိ၊ ဝင်စရာမရှိ သည်တိုင်
အောင်၊ ရှင်းရှင်း ပျက်စီးလေပြီ။ ကိတ္တိမ်ပြည်မှ

၂ သိတင်းကြားရ၏- ပင်လယ်ကူးတတ်သော ဇိ
ဒုန်ကုန်သည်တို့သည်စည်ပင်စေသော၊ ပင်လယ်
ကမ်းနားမှာနေသောသူတို့၊ ငြိမ်ဝပ်ကြလော့။-
၃ ရှေ့ဒေသရေကို အမှီပြုသော ရှိဟောရ မျိုးစေ့၊
မြစ်၏ အသီး၊ အနှံကို ထိုမြို့သည် အခွန်ရ၍၊ အ
တိုင်းတိုင်း အပြည်ပြည် တို့၏ဈေးဖြစ်လေပြီ။-
၄ ထို ဇိဒုန် မြို့၊ ရှက် ကြောက် ခြင်း ရှိလော့၊ အ
ကြောင်းမူကား၊ ပင်လယ်တည်းဟူသော ပင်
လယ်မြို့ ကြ၊ ငါသည်ကိုယ်ဝန်မဆောင်၊သား
မဖွား၊ လုလင်နှင့်အပျိုမတို့ကိုမမွေးမြူရဟုပြော
၅ ဆို၏၊- အဲဂုတ္တုပြည်သားတို့သည် တုရုမြို့ သိ
တင်းကိုကြားသောအခါ၊ ထိုသိတင်းကြောင့်အ
လွန်စိတ်ပူပန်ခြင်းသို့ရောက်ကြလိမ့်မည်၊-တာ
ရှုမြို့သို့ကူးကြလော့၊ ပင်လယ် နားမှာ နေသော
၇ သူတို့၊ ညည်းတွားမြည်တမ်းကြလော့၊- ဤမြို့
သည်ရှေးကာလ၌တည်သဖြင့်သင်တို့ရွှင်လန်း
သောမြို့လော၊ ဝေးသောအရပ်၌ တည်းခိုခြင်း
၈ ငှါ၊မိမိခြေတို့သည်မိမိကိုဆောင်သွားကြ၏၊-တု
ရုမြို့သည် ရာဇသရဖူကို ပေးတတ်သော မြို့ဖြစ်
လျက်၊သူ၏ကုန်သည်တို့သည် မင်းသား၊ဖောက်
ကား ရောင်း ဝယ် သော သူတို့သည် မြေကြီးမှူး
မတ်ဖြစ်လျက်၊ ထိုမြို့တဖက်၌အဘယ်သူသည်
၉ ဤအကြံကိုကြံစည်သနည်း၊- ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားသည်၊ ရှိသမျှသောဘုန်း
အသရေ၏ မာနကို အရှက်ခွဲခြင်းငှါလည်း၊ မြေကြီး
မှူးမတ် အပေါင်းတို့ကို ရှုတ်ချခြင်းငှါလည်း ထိုသို့
၁၀ ကြံစည်တော်မူ၏၊- ထိုတာရှုမြို့၏သမီး၊ ကမ်းမိုး
ဖျက် ထပြီ၊ မြစ် ကဲ့သို့ ကိုယ် ပြည် ကို နင်း ဖြတ်
လော့၊- ရန်သူသည် ပင်လယ် ပေါ်မှာ လက်ကို
ဆန့်၍၊တိုင်းနိုင်ငံတို့ကိုလှုပ်ရှားလေ၏၊ ခါနာန်
ပြည်၌ခိုင်ခံ့သောအရပ်တို့ကိုဖျက်ဆီးစေခြင်းငှါ၊
၁၂ ထာဝရဘုရား အမိန့်တော်ရှိ၏၊- ညှဉ်းဆဲခြင်း
ကို ခံရသော ကညာ၊ ဇိဒုန် မြို့၏ သမီး၊ သင်သည်
နောက် တဖန် ရွှင် လန်း ခြင်း မ ရှိရ၊ ထ လော့၊
ခိတ္တိမ်ပြည်သို့ကူးသွားလော့၊ ထိုအရပ်၌လည်း
၁၃ ငြိမ်သက်ခြင်းမရှိရဟု မိန့်တော်မူ၏၊- အထက်
ကမရှိသော ခါလဒဲအမျိုးသားတို့နေသော ပြည်
ကိုကြည့်ရှုလော့၊ ထိုပြည်ကိုအာရှုရှိမင်းသည်
တောတွင်း သားတို့ နေစရာအို့ တည် ထောင်၏၊
ထိုပြည်သားတို့သည်ပြအိုးတို့ကိုတည်ဆောက်
၍၊တုရုအိမ်တော်များနှင့်မြို့ကိုလည်းရှင်းရှင်း
၁၄ ဖျက်ဆီးကြ၏၊- တာရှုသင်္ဘောများတို့၊ ညည်း

တွားမြည်တမ်းကြလော့၊ သင်တို့၏မြို့ကြီးသည်
ဖျက်ဆီးပြီ၊
၁၅ ထိုကာလ၌ တုရုမြို့ကို၊ မင်းဆက်တဆက်ထ အ
တိုင်း အ ရှည်၊ အနှစ် ခုနှစ် ဆယ် ပတ်လုံး၊ အ
ထယ် သူ မှု မထောင်း မေ့ရ၊ အနှစ် ခု နှစ် ဆယ်
လွန်သော အခါ၊ ပြည်တန်ဆာ မိန်းမအားသီချင်း
ဆိုသကဲ့သို့၊ တုရုမြို့အားသီချင်းဆိုလိမ့်မည်၊-
၁၆ အထယ်သူမှု မထောင်းမေ့သော ပြည်တန်ဆာ
မိန်းမ၊ စောင်းကိုကိုင်၍ မြို့တွင် လှည့်လည်လော့၊
သူတပါးတို့သည်သင့်ကိုသတိမရစေခြင်းငှါ၊သာ
ယာ သော အသံနှင့် တီး၍၊ သီချင်းကို များစွာ
၁၇ ဆိုလော့၊- အနှစ် ခု နှစ်ဆယ် လွန်သော အခါ၊
ထာဝရဘုရားသည်တုရုမြို့ကိုအကြည့်အရှုကြွ
လာတော်မူလိမ့်မည်၊ သူသည်လည်း၊ တဝန်အ
မြတ်ရသော တာ သာ သို့ လိုက် ပြန်၍၊ မြေကြီး
မျက်နှာပေါ်မှာရှိသမျှသော လောကီနိုင်ငံတို့နှင့်
၁၈ မတရားသောမေထုန်ကိုပြုလိမ့်မည်၊-သို့ရာတွင်၊
သူ၏ ကုန် သွယ်ခြင်း၊ အမြတ် ရ ခြင်း အရာ တို့
သည် ထာဝရဘုရား အဖို့ သန့်ရှင်း လိမ့် မည်၊
သည်းဖူးသိုထားခြင်းကိုမပြုရ၊ကုန်သွယ်သော
ဥစ္စာသည် ထာဝရဘုရား ရှေ့တော်၌နေသောသူ
တို့အဖို့ဖြစ်၍၊သူတို့သည်ဝစွာစား၍ ခိုင်သော
အဝတ်ကိုဝတ်ကြလိမ့်မည်၊

၂၄

၁ ကြည့် ရှု လော့၊ ထာဝရ ဘုရား သည် ပြည်
တော်ကို လွတ်ထစ်စေ၍ ပယ်ရှင်း မှောက်ထား
သဖြင့်၊ ပြည်သားတို့ကို ကွဲပြားစေတော်မူ၏၊-
၂ ထိုအခါ ယဇ်ပုရောဟိတ် သည် ဆင်းရဲသားကဲ့
သို့၎င်း၊သခင်သည်ကျွန်ကဲ့သို့၎င်း၊သခင် မ သည်
ကျွန်မကဲ့သို့၎င်း၊ ရောင်းသောသူသည်ဝယ်သော
သူကဲ့သို့၎င်း၊ ကြွေးရှင်သည် ကြွေးတင်သောသူ
ကဲ့သို့၎င်း၊ အတိုးစားသောသူသည် အတိုးပေး
၃ သော သူကဲ့သို့၎င်း ဖြစ်ရလိမ့်မည်၊- တပြည်လုံး
လွတ် လပ်၍ ရှင်း ရှင်း ပျက် စီး ရ လိမ့် မည် ဟူ
သော အ ရာကို ထာဝရ ဘုရား မိန့် တော် မူ၏၊-
၄ ပြည်တော်သည်ငိုကြွေးညှိုးငယ်ခြင်းရှိ၏၊ လော
ကသည်အားလျော့၍ ညှိုးငယ်ခြင်းရှိ၏၊ ဘုန်း
ကြီးသောပြည်သားတို့သည်အားလျော့ကြ၏၊-
၅ ပြည် သား တို့ သည် တရား တော်ကို လွန်ကျူး
ခြင်း၊ အမိန့် တော်ကိုပြောင်းလဲ ခြင်း၊ ထာဝရ
သစ္စာ တော်ကို ဖျက် ခြင်း အ ကြောင်း ကြောင့်၊
၆ ပြည်တော်သည်ညစ်ညူးခြင်းရှိ၏၊-ထိုကြောင့်၊

ကျိန် တော်မူသော အ ကျိန်သည် ပြည်တော်ကို
ဖျက်ဆီးဖျက်ဆီး မီး ပြည် သား တို့ အ ပေါ်မှာ အ ပြစ်
ရောက်လေပြီ။ ထိုကြောင့်၊ ပြည်သားတို့သည်မှု
လောင်ကြသဖြင့်၊ ကျန်ကြွင်းသော သူတို့ သည်
၇ နည်းကြ၏။- သစ်သော စပျစ် ရည်သည် ငြိုငြင်
တော်။ စပျစ် နွယ် ပင်သည် ထည်း အားလျော့
လေ၏။စိတ်ရွှင်လန်းသောသူအပေါင်းတို့သည်
ညည်း တွားကြ၏။- သာယာသော ပတ်သာ အ
သံငြိမ်းပြီ။ ဝမ်း မြောက် သော သူ၏ အသံ မရှိ။
၉ သာယာ သော စောင်း သံ ထည်း ငြိမ်းပြီ။- သီ
ချင်းဆိုလျက်စပျစ်ရည်ကိုမသောက်ရကြ။ သေ
ရည်သေရက်ကို သောက်သောသူတို့သည်ပစပ်
၁၀ ခါး ကြလိမ့်မည်။- လွတ် လပ်သော မြို့သည် ပြို
ပျက်လေပြီ။ အဘယ်သူမျှမဝင်စေခြင်းငှါ၊အိမ်
၁၁ ရှားကို ပိတ်ထားကြပြီ။- စပျစ်ရည် ပြတ်သော
ကြောင့်လမ်းခရီးတို့၌မြည်တမ်းခြင်းရှိ၏။ဝမ်း
မြောက်ခြင်းလည်း အကြွင်းမဲ့ ကွယ်ပြီ။ တပြည်
၁၂ လုံး၌ သာ ယာသော အသံ ငြိမ်းပြီ။- ဆိတ်ညံ
ခြင်းသည်မြို့ထဲမှာကျန်ရစ်၏။မြို့တံခါးကိုလည်း
ရိုက်ခတ်၍ဖြိုဖျက်ကြပြီ။
၁၃ ထိုသို့ပြည်တော် အလယ်၊ ပြည်သား တို့တွင်
ဖြစ်ရ သော်လည်း၊ သံလွင်ပင်ကိုလှုပ်၍ အသီး
ကို ရ သ ကဲ့သို့၎င်း၊ စပျစ် သီးကို သိမ်း ယူသော
နောက်၊ အကြွင်း အကျန်ကို ကောက်ရသကဲ့သို့
၁၄ ၎င်းဖြစ်လိမ့်မည်။- ထိုသူတို့သည်ကြွေးကြော်၍
ရွှင်လန်း စွာ သီချင်း ဆိုကြ လိမ့်မည်။ ထာဝရ
ဘုရားကိုချီးမွမ်းသောအသံနှင့်ပင်လယ်တဖက်
၁၅ မှမြည်ကြလိမ့်မည်။- သို့ဖြစ်၍၊ အရှေ့မျက်နှာ
အရပ် တို့၌ ထာဝရ ဘုရားကို ၎င်း၊ ပင်လယ် တ
ဖက်တကျွန်းတနိုင်ငံအရပ်တို့၌၊ ဣသရေလအ
မျိုး၏ဘုရားသခင်တည်းဟူသော၊ထာဝရဘုရား
၁၆ ၏နာမတော်ကို၎င်းချီးမွမ်းကြလော့။- သန့်ရှင်း
တော် မူသော သူသည် ဘုန်း ကြီး တော် မူစေသ
တည်းဟု၊ မြေကြီးစွန်းမှသီချင်းဆိုသံကို ငါတို့
သည်ကြား၏။ငါမူကား၊အလွန်ဆင်းရဲ၏။ အ
လွန်ဆင်းရဲ၏။ အမင်္ဂလာရှိ၏။ လုရက်သောသူ
တို့သည်လုရက်လျက်နေကြ၏။ လုရက်သောသူ
၁၇ တို့သည်ကြမ်းတမ်းစွာလုရက်ကြ၏။- အိုပြည်
သား၊ သင်သည်ကြောက်လန့် ဖွယ်သောအရာ၊
မြေတွင်း၊ ကျော့ ကွင်း ထဲသို့ ရောက် လေ ပြီ။-
၁၈ ကြောက်လန့် ဖွယ် သော အရာမှ ပြေး သော သူ
သည်မြေတွင်း ထဲသို့ ကျလိမ့်မည်။ မြေတွင်းမှ
လွတ်သောသူသည် ကျော့ကွင်း၌ ကျော့မိလိမ့်
မည်။ ကောင်းကင်ပြွန်ဝ ပွင့်လျက်ရှိ၍၊ မြေကြီး
၁၉ အမြစ်ထည်းလှုပ်ရှားလေ၏။-ပြည်တော်သည်
တပြည်လုံး ပြတ် လေပြီ။ ပြည်တော် သည် အ
ကုန်အစင် ပြိုပျက်လေပြီ။ ပြည်တော် သည် အ
၂၀ လှုန်တုန်လှုပ်လျက်ရှိလေ၏။- ပြည်တော်သည်
ယစ်မူးသော သူကဲ့သို့ တလူး ထည်လည် ရှိ ၏။
ပုခက်ကဲ့သို့လှုပ်ရှား၏။ မိမိအပြစ်သည် မိမိအ
ပေါ်မှာ လေး သဖြင့်၊ ပြည် တော် သည် လဲလိမ့်
မည်။နောက်တဖန်မထရ။
၂၁ ထိုကာလ၌ထာဝရဘုရားသည်၊မြင့်သောအ
ရပ်၌ မြင့်သောအလုံး အရင်းကို၎င်း၊ မြေပေါ်မှာ
မြေကြီး ရှင်ဘုရင်တို့ကို ၎င်း ကြည့်ရှု စစ်ကြော
၂၂ တော်မူလိမ့်မည်။- သူတို့သည်တွင်းထဲမှာထစု
တည်း စုဝေး၍ ချုည်နှောင် ခြင်း၊ ထောင်ထဲမှာ
ချုပ်ထားခြင်းကိုခံလျက်နေရကြလိမ့်မည်။များ
စွာသောနေ့ရက်ကာလလွန်ပြီးမှ၊စစ်ကြောခြင်း
၂၃ ကိုခံရ ကြလိမ့်မည်။- လသည်ထည်း မျက်နှာ
ပျက် လိမ့်မည်။ နေသည်ထည်း အရှက် ကွဲလိမ့်
မည်။အကြောင်းမူကား၊ ကောင်းကင် ဗိုလ်ခြေ
အရှင် ထာဝရဘုရားသည်၊ ဇိအုန် တောင် ပေါ်
မှာယေရုရှလင်မြို့၌မင်းပြု၍၊အသက်ကြီးသူတို့
ရှေ့တွင်ဘုန်းကြီးတော်မူလတ့်။

၂၅

၁ အိုထာဝရဘုရား၊ကိုယ်တော်သည်အကျွန်ုပ်
၏ ဘုရား သခင် ဖြစ်တော် မူ၏။ ကိုယ် တော်ကို
မြှောက် စား ပါမည်။ နာမ တော်ကို ချီး မွမ်းပါ
မည်။ အံ့ ဖွယ်သောအမှုတို့ကိုပြုတော်မူပြီ။ရှေး
အကြံတော်တို့သည်မချွေ၊ သစ္စာနှင့်မြဲမြံကြပါ
၂ ၏။- မြို့ကိုအမှိုက်ပုံ၊ ခိုင်ခံ့သောမြို့ကို ပြိုပျက်ရာ
ဖြစ်စေတော်မူပြီ။ တကျွန်းတနိုင်ငံသားတို့၏နေ
ရာဘုံဗိမာန်သည်မြို့မဖြစ်၊နောက်တဖန်မတည်
မဆောက် ရမည် အကြောင်း၊စီရင်တော် မူပြီ။-
၃ ထို ကြောင့်၊ အားကြီး သော လူမျိုးသည် ကိုယ်
တော်ကိုချီးမွမ်း ကြပါလိမ့်မည်။ ကြောက်မက်
ဖွယ်သောလူမျိုးတို့၏နေရာမြို့သည်ကိုယ်တော်
၄ ကို ကြောက်ရွံ့ပါ လိမ့်မည်။- ကိုယ်တော်သည်
ဆင်းရဲသောသူတို့ခိုလှုံရာ၊ ငတ်မွတ်သောသူအ
မှုရောက်သည် ကာလ၌ ခိုလှုံရာ ဖြစ်တော် မူ၏။
ထရံကိုတိုက်သော မိုဃ်းသက်မုန်တိုင်း ကဲ့သို့၊
ကြောက်မက် ဖွယ်သောသူတို့၏ ဒေါသ အမျက်
ထွက်သောအခါ၊မိုဃ်းသက်မုန်တိုင်းလွှစ်ရာ၊

၅ ရေ ရှောင် ကွယ် ကာ ရာ ဖြစ် တော်မူ၏။— သွေ့
ခြောက်သောအရပ်၌ နေအရှိန်ကိုကဲ့သို့၊ တကျွန်း
တနိုင်ငံသားတို့၏ အသံဗလံကို ငြိမ်းစေတော်မူ
လိမ့်မည်။ ထူထပ်သော မိုဃ်းတိမ် အားဖြင့် နေ
အရှိန်ပျောက်သကဲ့သို့၊ ကြောက်မက်ဖွယ်သော
သူတို့၏သီခြင်းသံပျောက်ရပါလိမ့်မည်။
၆ ကောင်းကင် ဗိုလ် ခြေ အရှင် ထာ ဝရ ဘုရား
သည်၊ ခဲဖွယ်စားဖွယ်ပွဲ၊ ထောင်းသော စပျစ်
ရည်ပွဲတည်းဟူသော၊ ဆီသောခဲဖွယ်စားဖွယ်၊
ကောင်းစွာ စစ်သောစပျစ်ရည်ဟောင်းကိုလူ
ခပ်သိမ်းတို့အဘို့၊ ဤတောင်ပေါ်မှာစီရင်တော်မူ
၇ လိမ့်မည်။—လူခပ်သိမ်းတို့ကိုဖုံးသောမျက်နှာဖုံး
ကိုငှင်၊ ခပ်သိမ်းသောလူမျိုးတို့ကိုဖုံးလွှမ်းသော
တင်းတိမ်ကိုငှင်၊ ဤတောင်ပေါ်မှာပယ်တော်မူ
၈ လိမ့်မည်။—သေခြင်းကိုထည်းနစ်စွန့်ဆုံးရှုံးစေ
တော် မူလိမ့် မည်။ အရှင် ထာဝရ ဘုရား သည်
ထည်း၊ ခပ်သိမ်းသော မျက်နှာ ထို့မှ မျက်ရည်
ကို သုတ်တော်မူလိမ့်မည်။ ကိုယ်တော်၏လူတို့
သည် ခံရသောကဲ့ရဲ့ခြင်းကိုထည်း၊ မြေကြီးတ
ပြင်လုံး၌ပယ်ရှင်းတော်မူလိမ့်မည်ဟု၊ ထာဝရ
ဘုရားအမိန့်တော်ရှိ၏။
၉ ထိုကာလ၌ကြည့်ရှုလော့၊ ဤအရှင်ကား၊ ငါ
တို့မျှော်လင့်သော၊ ငါတို့၏ဘုရားသခင် တည်း။
ငါတို့ကို ကယ်တင် တော် မူလိမ့်မည်။ ဤအရှင်
ကား၊ ငါတို့မျှော်လင့်သောထာဝရဘုရားတည်း။
ကယ်တင်တော် မူခြင်း ကျေးဇူးကြောင့်၊ ငါတို့
သည်ဝမ်းမြောက်ရွှင်လန်းကြကုန်အံ့ဟု ဆိုကြ
၁၀ လိမ့်မည်။—အကြောင်းမူကား၊ ထာဝရဘုရား၏
လက် တော် သည် ဤ တောင် ပေါ် မှာ ငြိမ် လိမ့်
မည်။ မောဘအမျိုးသည် နောက်ချေး၌ပွတ်၍နှိပ်
နင်းခြင်းကိုခံရသကဲ့သို့၊ မောဘပြည်သည်မိမိ၌
၁၁ နှိပ်နင်းတော် မူခြင်းကို ခံရ လိမ့်မည်။— ရေကူး
သောသူသည်ရေကူးခြင်း၌လက်ကိုဆန့်သကဲ့
သို့၊ မောဘပြည် အလယ်၌ လက်တော်ကို ဆန့်
၍၊ မောဘ၏ မာနနှင့် လက်သတ္တိကို ချ တော်မူ
၁၂ လိမ့်မည်။—သင်တို့၏မြို့ရိုးပြအိုးအထွဋ်ကိုဖြို၍၊
မြေတိုင်အောင်နှိမ့်သခြင်း၊ မြေမှုန့်ထဲမှာချတော်
မူလိမ့်မည်။

## ၂၆

၁ ထို ကာလ၌ ယုဒ ပြည်မှာ သီ ခြင်း၊ ဆို ထတ်
သောစကားဟူမူကား၊ ငါတို့၌ ခိုင်ခံ့သောမြို့ရှိ
၏။ ကယ်တင်ခြင်းကျေးဇူးကိုပြအိုး၊ ရင်တားအ
၂ ရာ၌စီရင်ခန့်ထားတော်မူလိမ့်မည်။— တံခါးတို့
၃ ကိုဖွင့်ကြလော့။ သစ္စာစောင့်၍ဖြောင့်မတ်သော
လူမျိုးဝင်ပါစေ။ စိတ်နှလုံး တည်ကြည်သော
သူသည် ကိုယ်တော်၌ ခိုလှုံသော ကြောင့်၊ ငြိမ်
သက်ခြင်း သက်သက် ရှိမည် အကြောင်း စောင့်
၄ ရှောက်တော်မူလိမ့်မည်။— ထာဝရဘုရား၌ အ
စဉ်အမြဲ ခိုလှုံ ကြလော့။ ထာဝရဘုရားသည်
၅ နိစ္စထာဝရခိုလှုံရာဖြစ်တော်မူ၏။— မြင့်သောအ
ရပ်၌နေသောသူတို့ကိုရှုတ်ချတော်မူ၏။ မြင့်မြတ်
သောမြို့ကိုဖြို၍၊ မြေတိုင်အောင်နှိမ့်ချလျက်မြေ
၆ မှုန့်ထဲမှာထားတော်မူ၏။—ကျော်နင်းခြင်းကိုခံရ
လိမ့်မည်။ ဆင်းရဲသောသူနှင့်တော်ခွက်သောသူ
တို့သည်ကျော်နင်းကြလိမ့်မည်။
၇ ဖြောင့် မတ် သော သူသည် ဖြောင့်သောထမဲ့
၌ သွားတတ်၏။ ထိုဖြောင့် မတ်တော် မူ သော
ဘုရား၊ ကိုယ်တော်သည် ဖြောင့်မတ်သောသူ၏
၈ ထမ်းခရီးကို ဖွင့် ဆင်တော် မူ၏။— ဖိုထာဝရ
ဘုရား၊ အကျွန်ုပ်တို့သည် တရားတော် ထမ်း၌
သွားလျက်၊ ကိုယ်တော်ကို မျှော်လင့်၍၊ ကိုယ်
တော်၏အမည်၊ အောက်မေ့ဘွယ်ရာကို စိတ်နှလုံး၌တ
၉ သလျက် ရှိပါ၏။— ညည့်အခါ အကျွန်ုပ် သည်
စိတ်နှလုံးနှင့်ကိုယ်တော်ကိုတောင့်တပါ၏။ နံ
နက်အခါ အကျွန်ုပ် သည် အတွင်း ဝိညာဉ်အား
ဖြင့်၊ ကိုယ်တော်ကိုရှာပါ၏။ မြေပေါ်မှာအမှုကို
စစ်ကြောစီရင်တော်မူသောအခါ၊ လောကီသား
၁၀ တို့သည်တရားကိုသင်ကြ၏။—မတရားသောသူ
သည်ကျေးဇူးကို ခံရသော်ထည်း၊ တရားကိုမ
သင်တတ်ပါ။ တရားကျင့်ရာပြည်၌ ပင် အဓမ္မပြု
၍၊ ထာဝရဘုရား၏ ဘုန်းတော်ကိုပမာဏမပြု
၁၁ တတ်ပါ။— ဖိုထာဝရဘုရား၊ လက်တော်ကို မြှော
တော်မူသော်လည်း၊ သူတို့သည်မမြင်မမှတ်ကြ
ပါ။ သို့သော်ထည်း၊ ကိုယ်တော် ၏ လူ တို့အဘို့
စိတ်အားကြီးတော်မူကြောင်းကို၊ သူတို့သည်မြင်
၍အရှက်ကွဲကြ ပါလိမ့်မည်။ ကိုယ်တော်၏ရန်
သူတို့ကိုမီးလောင်ရပါလိမ့်မည်။
၁၂ ဖိုထာဝရဘုရား၊ ကိုယ်တော်သည်အကျွန်ုပ်
တို့အားငြိမ်သက်ခြင်းကို ပေးတော်မူလိမ့်မည်။
အကြောင်းမူကား၊ အကျွန်ုပ်တို့၏အမှုရှိသမျှတို့
ကို အကျွန်ုပ်တို့အဘို့ ပြုတော်မူ၏။— အကျွန်ုပ်တို့
၏ ဘုရားသခင်ထာဝရ ဘုရား၊ ကိုယ်တော်မှတ
ပါး၊ အခြားသောသခင်တို့သည် အကျွန်ုပ်တို့ကို
အစိုးရကြပါပြီ။ ယခုမူကား၊ ကိုယ်တော်အား

၁၄ မြင့်သော နာမတော်ကို ချီးမွမ်းကြပါမည်။- ထို
သေသော သူတို့သည် အသက်မ
ရှင်ရကြပါ၊ သင်းချိုင်းသားဖြစ်၍ ထမြောက်
ခြင်းမရှိရကြပါ။ သူတို့ကိုကြည့်ရှု ဖျက်ဆီး၍၊
သူတို့၏ အမှတ်မျှ မရှိစေခြင်းငှါ ပယ်ရှင်းတော်
၁၅ မူပြီ။- အိုထာဝရဘုရား၊ အကျွန်ုပ်တို့အမျိုးကို
ထိုးပွားစေတော်မူပြီ။ အကျွန်ုပ် တို့ အမျိုး ကို
တိုးပွားစေသဖြင့်၊ ဘုန်းကြီးတော်မူ၏။ ပြည်
၁၆ တော်ကိုပတ်ဝန်းကျင်၌ကျယ်စေတော်မူပြီ။-အို
ထာဝရဘုရား၊ သူတို့သည် ဆင်းရဲခံရသောအ
ခါ၊ ကိုယ်တော်၌ဆည်းကပ်ကြပါပြီ၊ ဆုံးမတော်
မူသောအခါ၊ ဆုတောင်း ပဌနာစကားကို သွန်း
၁၇ ထောင်းကြပါ ပြီ။- ကိုယ်ဝန် ဆောင်သော မိန်း
မသည်သားဖွားမြန်နီးသောအခါ၊ နာကြင်၍နာ
ကြင်ခြင်းဝေဒနာကြောင့်အော်ဟစ်သကဲ့သို့၊ အို
၁၈ ထာဝရဘုရား၊ အကျွန်ုပ်တို့သည်ရှေ့
တော်၌ဖြစ်ကြပါပြီ။- အကျွန်ုပ်တို့သည် ကိုယ်
ဝန် ဆောင်၍ နာကြင် ခြင်း ဝေဒနာကို ခံရ သော်
လည်း၊ လေကိုဖွားသကဲ့သို့ဖြစ်ကြပါပြီတကား၊
ပြည်သား တို့သည် ကယ်တင် ခြင်းသို့ မရောက်
ကြ၊ လောကီသားတို့သည်မလဲကြပါ။
၁၉ ကိုယ်တော်၏လူသေတို့သည် အသက်ရှင်ကြ
ပါလိမ့်မည်။ ငါ၏အသေကောင်တို့သည်လည်း
ထမြောက်ကြပါလိမ့်မည်။ မြေမှုန့်၌နေသောသူ
တို့၊ နိုး၍သီချင်းဆိုကြလော့။ အကြောင်းမူကား၊
ကိုယ်တော် ၏ နှင်းသည် မြက်ပင် တို့ကို ပေါ်ထ
စေသော နှင်းကဲ့သို့ ဖြစ်၍၊ မြေသည် လည်း မိမိ
ထင်းရှိုင်းသားတို့ကိုထုတ်ဖော်ရပါလိမ့်မည်။-
၂၀ ငါ၏လူတို့၊ သွားကြ၊ အတွင်းအခန်းထဲသို့ဝင်၍၊
သင်တို့ကို ကွယ်ကာသော တံခါးများကို ပိတ်
ထားကြ၊ အမျက်ကာလလွန်သည် တိုင်အောင်
၂၁ ခဏသာပုန်းရှောင်၍နေကြလော့။-အကြောင်း
မူကား၊ ထာဝရဘုရားသည်မြေကြီးသားတို့ကို၊
သူတို့ဒုစရိုက်ကြောင့်အပြစ်ပေးလိုသောငှါ၊ မိမိ
အရပ် ဌာနထဲက ထွက်တော်မူ၏။ ထိုအခါ မြေ
ကြီးသည်မိမိ၌ ရှိသောအသွေးကို ဖော်ပြရလိမ့်
မည်။ မိမိ၌အသေ ခံရသော သူတို့ကို နောက်ထ
ပ် ဖုံးထား၍ မထားရ။

၂၇

၁ ထိုကာလ၌ ထာဝရ ဘုရား သည် ပြေးတတ်
သော မြွေလဝိသန်ကို၎င်း၊ ထိမ် သော မြွေလဝိ
သန်ကို၎င်း၊ ပိုင်နိုင်ကြီးမားသော ထားတော်နှင့်
ဒါဏ်ပေး၍၊ ပင်လယ်၌ ရှိသော နဂါးကိုလည်း
သတ်တော်မူလိမ့်မည်။
ထိုကာလ၌စပျစ်ဥယျာဉ်ကို အကြောင်းပြု၍၊
၃ ဤသို့ သီချင်းဆို ကြလော့။- ငါထာဝရဘုရား
သည် ဥယျာဉ် စောင့် ဖြစ် ၏။ မပြတ် ရေ
လောင်းမည်။ အဘယ်သူမျှ မဖျက်စေခြင်းငှါ၊
၄ ညဉ့်နေ့မပြတ် စောင့်ရှောက်မည်။- ငါအမျက်
ငြိမ်းပြီ၊ ဆူးပင်မျိုးကိုမူကား၊ စစ်တိုက်၌ငါ့ရှေ့ပါ
စေသော၊ ချက်ချင်း တိုက်၍ တပြိုင် နက် မီး ရှို့
၅ မည်။- သို့မဟုတ်၊ ငါ၏အစွမ်းသတ္တိကိုကိုး စား
၍၊ ငါနှင့်မိဿဟာယဖွဲ့ကြစေ၊ ငါနှင့်မိဿဟာ
ယ ဖွဲ့ကြစေသော။
၆ နောင်ကာလ၌ ယာကုပ်သည် အမြစ်ကျလိမ့်
မည်။ ဣသရေလ သည် မိမ်းထန်း၍ အရွက်အငုံ
ထွက် သဖြင့်၊ လောကီ နိုင်ငံကို အသီး နှင့် ပြည့်
၇ စေလိမ့်မည်။- သူကို ဒဏ်ခတ်သော သူတို့ ကို
ဒဏ်ခတ်တော်မူသည်နည်းတူ၊ သူကိုဒဏ်ခတ်
တော်မူသလော။ သူကိုသတ်သောသူတို့သည် အ
သေသတ်ခြင်းကိုခံရကြသည်နည်းတူ၊ သူသည်
၈ အသေသတ်ခြင်းကိုခံရသလော။- သူကိုနှင်ထုတ်
၍ အတော်အတန်ဆုံးမတော်မူ၏။ အရှေ့လေလာ
သော အခါ၊ ပြင်းစွာ သော လေဖြင့် တိုက် ထွား
၉ တော် မူ၏။- ထိုသို့ ယာကုပ် အမျိုးသည် ထုံး
မကျောက်ကို ကြေကျောက်ကဲ့သို့ ရိုက်ခွဲ၍၊
အာရှရပင်နှင့် ရုပ်တု တို့ကို ဖျက်ဆီး သော အခါ၊
မိမိ အပြစ် ပြေ၍၊ အပြစ် ပြေ ရှင်း ခြင်း အကျိုး
၁၀ ကျေးဇူး ရှိ သမျှ ကို ခံ ရလိမ့် မည်။- ထို သော်
လည်း၊ ခိုင်ခံ့သောမြို့သည်၊ ဆိတ်ညံသောအရပ်၊
တောကဲ့သို့ စွန့်၍ ပြစ်ထားသော နေရာဖြစ်လိမ့်
မည်။ ထိုအရပ်၌ နွား သငယ်သည် ကျက်စား
လျက်၊ အိပ်လျက်နေ၍၊ အညွန့်များကိုကိုက်စား
၁၁ လိမ့်မည်။-အခက်အလက်တို့သည် သွေ့ခြောက်
သောအခါ ချိုးခြင်းသို့ ရောက်၍၊ မိန်းမတို့သည်
လာ၍ မီးရှို့ ကြ လိမ့် မည်။ အကြောင်း မူကား၊
ပညာမဲ့သောအမျိုးဖြစ်၏။ ထိုကြောင့်၊ဖန်ဆင်း
တော်မူသောသူသည်မသနား၊ ကျေးဇူးမ
ပြုဘဲနေတော်မူလိမ့်မည်။
၁၂ အို ဣသရေလ အမျိုး သား တို့၊ ထို ကာလ၌
လည်း၊ ထာဝရဘုရား သည် မြစ်ကြီးမှ စ၍၊ အဲ
ဂုတ္တုမြစ်တိုင်အောင် သစ်သီးများကို ထိမ်းချွေ
တော်မူသဖြင့်၊ သင်တို့သည်တယောက်နောက်
တယောက်၊ စုဝေးခြင်း ကျေးဇူးကိုခံ

၁၃ ကို ခံရကြလိမ့်မည်။- ထိုကာလ၌လည်း၊ ကြီး
သော တံပိုးကိုမှုတ်ရလိမ့်မည်။ အာရှုရိပြည်၌
ပျောက်သောသူ၊ အဲဂုတ္တုပြည်၌ စွန့်ပြစ်လျက်
နေသောသူတို့သည်လာ၍၊ ယေရုရှလင်မြို့တွင်၊
သန့်ရှင်းသောတောင်ပေါ်မှာထာဝရဘုရားရှေ့
တော်၌ဝတ်ပြု၍ကိုးကွယ်ကြလိမ့်မည်။

၂၈

၁ စပျစ်ရည်နှင့်ယစ်မူးသောသူတို့၏နေရာကြွယ်
ဝသော ချိုင့်ဦး၌တွင်၊ ဧဖရိမ်အမျိုးသေသောက်
ကျူးသို့၏မာနသရဖူနှင့်၊သူတို့၌ညှိုးနွမ်းတတ်
သောဘုန်းအသရေ၏ပန်းပွင့်သည်အမင်္ဂလာရှိ
၂ ၏။- ထာဝရဘုရား၌ခွန်အားတန်ခိုးကြီးသော
သူသည်၊ မိုဃ်းသီး ပါ လျက် ဖျက် ဆီး သော
မိုဃ်းသက် မုန် တိုင်း ကဲ့သို့၎င်း၊ ပြင်း စွာ ထ၍
လွှမ်းမိုးသောရေကြီးကဲ့သို့၎င်း၊ မြေတိုင်အောင်
၃ ပြင်းစွာ ချပြစ် လိမ့် မည်။- ဧဖရိမ် အမျိုး သေ
သောက်ကျူးတို့၏ မာနသရဖူသည်၊ ကျော်နင်း
၄ ခြင်းကို ခံရလိမ့် မည်။- ကြွယ်ဝသော ချိုင့် ဦး
တွင်၊ သူတို့၌ညှိုးနွမ်းတတ်သောဘုန်းအသရေ
၏ပန်းပွင့် သည်၊ နွေကာလ မရောက်မှီ အလျှင် သီး
သော အသီးကဲ့သို့ ဖြစ်လိမ့် မည်။ ထိုအသီးကို
မြင်သောသူသည်မြင်လျက်၊ လက်ခွင့်ကိုင်လျက်
ပင်စားတတ်၏။
၅ ထိုကာလ၌လည်း၊ ကောင်းကင် ဗိုလ်ခြေ အ
ရှင်ထာဝရဘုရားသည်၊ ကျန်ကြွင်းသောမိမိလူ
တို့၌ ဘုန်းရှိ သော သရဖူ၊ အသရေ တင့် တယ်
၆ သောဦးရစ်ဖြစ်တော်မူလိမ့်မည်။- တရားမှုကိုစီ
ရင်သောသူတို့အား၊ တရားစီရင်သော ဉာဏ်
ကို၎င်း၊ ရန်သူမျိုး တံခါးတိုင်အောင်စစ်မှုကိုလှန်
သောသူတို့အား၊ ခွန်အားဗလကို၎င်းပေးတော်
မူလိမ့်မည်။
၇ သို့သော် လည်း၊ ထို သူ တို့ သည် စပျစ် ရည်
ကြောင့် မှား ယွင်း ကြ ပြီ၊ သေ ရည် သေ ရက်
ကြောင့် လမ်း လွဲ ကြ ပြီ၊ ယဇ် ပုရော ဟိတ် နှင့်
ပရောဖက်တို့သည်သေရည်သေရက်ကြောင့်မှား
ယွင်းကြပြီ၊ စပျစ်ရည် နှင့် မူးကြပြီ၊ သေရည်
သေရက်ကြောင့်လမ်းလွဲကြပြီ။ ဗျာဒိတ်ခံသည်
အရာ၌မှားယွင်းလျက်၊ တရားစီရင်သည်အရာ
၈ ၌ထိမိ၍လဲလျက်နေကြ၏။- သူတို့စားပွဲရှိသမျှ
တို့သည်၊ လွတ်လပ်ရာမရှိသည်တိုင်အောင်၊ အန်
ဖတ်နှင့်၎င်း၊ အညစ်အကြေးနှင့်၎င်းပြည့်လျက်ရှိ
၉ ကြ၏။- သူတို့က၊ အဘယ်သူကို ပညာသွန်သင်
ချင်သနည်း။ အဘယ်သူကို တရားနားထောင်စေ
ချင်သနည်း။ ငါတို့သည် နို့နှင့်ကွာစရှိသောသူ၊
အမိသခြတ်နှင့် အနိုင်ကွာရသောသူ ဖြစ်ကြသ
၁၀ လော။- ပညတ်တရပေါ်မှာ တရ၊ တရပေါ်မှာ
တရ၊ တနည်းပေါ်မှာ တနည်း၊ တနည်းပေါ်မှာ
တနည်း၊ သည်အက်မှာအနည်းငယ်၊ ဟိုထက်
မှာ အနည်းငယ် ရှိ ပါသည် တကား ဟု ဆိုကြ
၁၁ ၏။- အကယ် စင်စစ်၊ စကား မပြီ သော နှုတ်၊
ခိုင်းသော လျှာနှင့် ဤလူမျိုးကို မိန့် တော် မူလိမ့်
၁၂ မည်။- ဤသို့ပြု လျှင်ငြိမ်ဝပ်လိမ့်မည်။ပင်ပန်း
သော သူတို့သည် ငြိမ်ဝပ် ကြစေ။ ဤသို့ ပြုလျှင်
သက်သာ လိမ့်မည်ဟု မိန့်တော် မူသော်လည်း၊
၁၃ သူတို့သည်နားမထောင်ကြ။- ထိုကြောင့်၊သူတို့
သည် သွားရာတွင်၊ လှန်ဆုတ်၍ ကျိုးပဲ့ကျွံ၍မိ
ဖမ်းဆီးခြင်းသို့ရောက်မည့်အကြောင်း၊ ထာဝရ
ဘုရား၏ နှုတ်ကပတ်တော်သည်သူတို့၌ ပညတ်
တရပေါ်မှာတရ၊ တရပေါ်မှာတရ၊ တနည်းပေါ်
မှာတနည်း၊တနည်းပေါ်မှာတနည်း၊သည်ထက်
မှာအနည်းငယ်၊ ဟိုအက်မှာ အနည်းငယ် ဖြစ်
ရလိမ့်မည်။
၁၄ ထို့ကြောင့်၊ ဆဲရေးတတ်သော ယေရုရှလင်မြို့
သား၊ အကြီးအကဲတို့၊ ထာဝရဘုရား၏နှုတ်က
၁၅ ပတ်တော်ကိုနားထောင်ကြလော့။- သင်တို့က၊
ငါတို့သည်သေမင်းနှင့်မိဿဟာယဖွဲ့ကြပြီ။မရ
ဏာနိုင်ငံနှင့်အကျွမ်းဝင်ကြပြီ၊ လွှမ်းမိုးသော
ဘေးသည် ချင်းနင်း သောအခါ၊ ငါတို့ရှိရာသို့
မရောက်ရ။ ငါတို့သည် မုသာကိုကိုးစားကြ၏။
လှည့်စားခြင်း အောက်၌ ပုန်းကွယ်၍ နေကြ၏
၁၆ ဟုဆိုတတ်သောကြောင့်၊- အရှင်ထာဝရဘုရား
က၊ စုံစမ်းသောအမြစ်ကျောက်တည်း။ ဟူသော
မလှုပ်နိုင်အောင်မြဲမြံသော တိုက်ထောင့်အမြစ်
ကျောက်မြတ်ကိုဇိအုန်တောင်ပေါ်မှာငါချထား
၏။ ထိုကျောက်ကို အမှီပြုသောသူသည် ပြေးရ
၁၇ သော အကြောင်းမရှိ။- တရားမှုကို ဆုံ၊ ဖြောင့်
ခြင်း၊ ဖြောင့်မတ်စွာစီရင်ခြင်းကို မျဉ်းကြိုးနှင့်
မှန် ထုပ် အားဖြင့် ငါ ပြုမည်၊ မိုဃ်းသီး စွာ၍
ကိုးစားရာ မုသာကို ပယ် ရှား လိမ့်မည်၊ ပုန်း
ကွယ်ရာအရပ်ကိုလည်း ရေလွှမ်းမိုးလိမ့်မည်။-
၁၈ သင်တို့သည် သေမင်းနှင့် ဖွဲ့သော မိဿဟာယ
ပျက် လိမ့် မည်၊ မရဏာ နိုင်ငံ နှင့် အကျွမ်းဝင်
ခြင်းသည်အအမမြောက်ရ။လွှမ်းမိုးသောဘေး
သည်ချင်းနင်းသောအခါ၊ သင်တို့ကိုထည်းကျော်

၁၉ နင်းလေ်မည်။— ချင်းနင်းစည်တွင် ပါသွား လိမ့်
မည်။ နံနက်အချိန်ရောက်မြဲအစည်အတိုင်း၊နေ့
ညည့်မပြတ်ချင်းနင်းသည်ဖြစ်၍၊သိတင်းကြား
ကာမျှအားဖြင့်ထိတ်လန့်ခြင်းအကြောင်းရှိလိမ့်
၂၀ မည်။- ခုတင်သည်ကိုယ်မဆန့်လောက်အောင်
တို၏။ စောင်သည်လည်း မချုံလောက် အောင်
၂၁ ငယ်၏။- ထာဝရဘုရားသည် အမှုတော်တည်း
ဟူသော၊ ထူးခြားသောအမှုတော်ကို ပြုခြင်းငှါ
၎င်း၊အလုပ်တော်တည်းဟူသော၊လုပ်မြဲမထုတ်
သောအလုပ်တော်ကို ထက်စသတ်ခြင်းငှါ ၎င်း၊
ပေရဇိမ် တောင်ပေါ်မှာ ပြုသကဲ့သို့ ထတော်မူ
မည်။ဂိဗောင်ချိုင့်ထဲမှာရှိသကဲ့သို့အမျက်ထွက်
၂၂ တော်မူမည်။- ယခုမှာသင်တို့သည်သာ၍ပြင်း
စွာသော ဆုံးမခြင်းနှင့် လွတ်မည် အကြောင်း၊
နောက်တဖန်ဆဲရေးခြင်းကိုမပြုကြနှင့်။ပြည်တ
ပြည်လုံး၌အနှံ့အပြားစီရင်ဆုံးဖြတ်သောသုတ်
သင် ပယ်ရှင်းခြင်း ရှိလိမ့်မည်ဟု၊ ကောင်း ကင်
ဗိုလ်ခြေသခင်အရှင်ထာဝရဘုရားထံတော်၌ငါ
ကြားရပြီ
၂၃ ငါပြောသံကိုကြား၍မှတ်ကြလော့။ငါစကား
၂၄ ကိုစေ့စေ့နားထောင်နားထူကြလော့။— လယ်ထုပ်
သောသူသည် မျိုးစေ့ကို ကြဲခြင်းငှါ၊ မြေကိုထွ
လျက်၊ မြေစိုင်ကို ချေလျက် အစဉ် လယ်ထွန်
၂၅ တတ်သလော။- လယ်မျက်နှာကိုညှိပြီးမှ စမုန်
နက် မျိုးစေ့၊ ဇီယာမျိုး စေ့ ကို ကြဲသည် မဟုတ်
လော။ ဂျုံစပါးမျိုးစေ့ကိုအတန်းတန်း စိုက်၍၊
မုယော စပါးနှင့် ကောက်စပါးမျိုးစေ့ အသီးအ
သီးတို့ကိုသူတို့အရပ်၌ကြဲသည်မဟုတ်လော။-
၂၆ အကြောင်းမူကား၊ သူ၏ဘုရားသခင်သည်စီရင်
တတ်သောဉာဏ်ကိုပေးတော်မူ၏။သူကိုသွန်း
သွန်သင်တော်မူ၏။- စမုန်နက်မျိုးစေ့ကိုလည်း
ပျည်ပြားနှင့်မနယ်တတ်။ဇီယာစေ့ပေါ်၌လည်း
လှည်းဘီးကိုမလှိမ့်တတ်။ စမုန်နက်စေ့ကိုဒုတ်
နှင့်၎င်း၊ ဇီယာစေ့ကို ကြိမ်လုံးနှင့်၎င်း ရိုက်တတ်
၂၇ ၏။- ဂျုံ စပါးကို ကားနယ် တတ် ၏။ သို့သော်
လည်း၊ အစဉ်နယ် ဘတ်သည် မဟုတ်။ လှည်း
ဘီးနှင့်မြင်းတို့ကိုနှင်သော်လည်း၊စပါးကိုညက်
၂၈ စေ တတ်သည် မဟုတ်။- ထိုအမှုသည် ထည်း၊
ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရဘုရားအကြံ
ပေးတော်မူသောအမှုတည်း။အကြံပေးတော်မူ
ခြင်းသည် အံ့ဩဖွယ် ဖြစ်၏။ ဉာဏ် တော်
သည်ထည်းထူးဆန်းပေ၏။

## ၂၉

၁ အရေလမြို့၊ ဒါဝိဒ် မင်းနေသော အရေလ မြို့
သည်အမင်္ဂလာရှိ၏။ တနှစ်ပေါ်မှာ တနှစ်ထပ်
၂ ကြလော့။ ပွဲတို့ကိုအလှည့်လှည့်ခံကြလော့။-သို့
ရာတွင်၊ အရေလ မြို့ ကို ငါ ဆင်း ရဲ စေ၍၊ ထိုမြို့
သည်ဝမ်းနည်းခြင်းနှင့်ညည်းတွားခြင်းရှိသော်
လည်း၊ အရေလ မြို့ ကဲ့သို့ ငါ့ ရှေ့ မှာ ဖြစ် ရ လိမ့်
မည်။-ငါသည်သင့်ပတ်ဝန်းကျင်၌တပ်ချမည်။
မြေရိုးနှင့်ပိုင်းထား၍၊မြေကတုပ်များကိုထည်း
၄ တူးလုပ်မည်။— သင်သည်နှိမ့်ချခြင်းကိုခံ၍မြေ
ထဲကပြောရလိမ့်မည်။ မြေမှုန့်ထဲက ငယ်သော
အသနှင့်မြွက်ရလိမ့်မည်။ သင်ပြောသောအသံ
သည်နတ်ဝင်သူပြောသံကဲ့သို့မြေထဲကထွက်၍၊
သင်သည် မြေမှုန့် ထဲက အသံ သေးနှင့် တိုးတိုး
၅ မြွက်ဆိုရလိမ့်မည်။-သို့ရာတွင်၊သင်၏ရန်သူအ
လုံးအရင်းသည်အထုမြူကဲ့သို့၎င်း၊ကြောက်မက်
ဖွယ်သောသူအလုံးအရင်းသည်လွင့်သွားသော
ဖွဲကဲ့သို့၎င်းဖြစ်၍၊ အလျှင်တဆော ချက်ချင်း အ
၆ မှုရောက်လိမ့်မည်။- ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရားသည်၊ မိုးချိန်းခြင်း၊ မြေလှုပ်
ခြင်း၊ အသံဗလံမြည်ခြင်းနှင့်တကွမိုးသက်
မုန်တိုင်း၊ လောင်တတ်သော မီးလျှံအားဖြင့်အ
၇ ပြစ်ပေးတော်မူမည်။-အပြည်ပြည်ကလာ၍၊အ
ရေလမြို့ကိုစစ်တိုက်သောအလုံးအရင်း၊ အရေ
လမြို့နှင့်ခံတပ်ကိုတိုက်၍ ညှဉ်းဆဲသောသူအ
ပေါင်းတို့သည်၊ အိပ်မက်တည်းဟူသောညည့်
၈ ရူပါရုံကဲ့သို့ဖြစ်ရကြလိမ့်မည်။- မွတ်သိပ်သော
သူသည် အိပ်မက်တွင်စားရသည်ဟုထင်သော်
လည်း၊ နိုးသောအခါ အမွတ်အသိပ်မပြေသကဲ့
သို့၎င်း၊ ရေငတ်သော သူ သည် အိပ် မက် တွင်
သောက်ရသည်ဟုထင်သော်လည်း၊နိုးသောအ
ခါ နွမ်းနယ်လျက်၊ တောင့်တလျက်ရှိသကဲ့သို့
၎င်း၊အပြည်ပြည်ကလာ၍၊ဇိအုန်တောင်ကိုစစ်
တိုက်သောအလုံးအရင်းသည်ဖြစ်ရလိမ့်မည်။
၉ ဖင့်နွှဲ၍ မှိုင်တွေကြလော့။ ကာမဂုဏ်၌ပျော်
မွေ့၍ မွန်လျက် နေကြလော့။ စပျစ် ရည်ကို မ
သောက်ဘဲ ယစ်မူးလျက်၊ သေရည်သေရက်ကို
၁၀ မသောက်ဘဲ တိမ်း ယိမ်း လျက် ရှိ ကြ၏။- အ
ကြောင်း မူကား၊ ထာဝရ ဘုရားသည် အိပ်ချင်
သောသဘောကိုသင်တို့၌ သွန်းသာဖြင့်၊ သင်တို့
မျက်စိကိုပိတ်၍၊ သင်တို့၏ပရောဖက်များ၊ မင်း
များ၊ ဗျာဒိတ် ခံသူများတို့ကို ဖုံးလွှမ်း တော် မူ

၁၁ ပြီ။-ဗျာဒိတ်တော်ရှိသမျှသည်တံဆိပ်ခတ်သော
စာကဲ့သို့သင်တို့၌ဖြစ်၏။ ထိုစာကိုစာတတ်သော
သူအားပေး၍၊ဤစာကိုဖတ်ပါလော့ဟုဆိုလျှင်၊
ထိုသူက၊ ဤ စာကို ငါ မဖတ် နိုင်၊ တံဆိပ် ခတ်
၁၂ လျက်ရှိ၏ဟု ပြန်ပြော တတ်၏။- ထိုစာကိုစာမ
တတ်သောသူအားပေး၍၊ ဤစာကိုဖတ်ပါလော့
ဟုဆိုလျှင်၊ ထိုသူက၊ ငါသည်စာမတတ်ဟုပြန်
၁၃ ပြောတတ်၏။- ထာဝရဘုရားကလည်း၊ ဤလူ
မျိုးသည်နှုတ်နှင့်ငါ့ထံသို့ချဉ်းကပ်၍၊ နှုတ်ခမ်း
နှင့်ငါ့ကိုရိုသေကြ၏။ စိတ်နှစ်လုံးမူကား၊ ငါနှင့်
ဝေးလျှ၏။ လူတို့စီရင်သောပညတ်တို့ကိုအမှီပြု
၁၄ ၍ငါ့ကိုကြောက်ရွံ့ကြ၏။- ထိုကြောင့်၊ အံ့ဩ
ကြောက် မက် ဖွယ် သော အမှုကို ဤလူမျိုး တွင်
တဖန်ငါပြုဦးမည်။ သူတို့တွင်ပညာရှိတို့၏ပညာ
သည်ပျက်စီး လိမ့်မည်။ ဉာဏ်ကောင်း သော
သူတို့၏ဉာဏ်လည်းကွယ်ပျောက်လိမ့်မည်ဟု
မိန့်တော်မူ၏။

၁၅ ထာဝရဘုရားမသိစေခြင်းငှါ၊နက်နဲသောအ
ကြံကိုကြံ၍၊ မှောင်မိုက်ထဲမှာအမှုကို ပြုလျက်၊
ငါတို့ကို အဘယ်သူ မြင်သနည်း၊ ငါတို့ကို အ
ဘယ်သူ သိသနည်းဟု၊ ပြောဆိုတတ်သော သူ
၁၆ တို့သည်အမင်္ဂလာရှိကြ၏။-သင်တို့သည်ဖောက်
ပြန်ကြသည်တကား။ အိုးထိန်းသမားကို၊ အိုး
မြေကဲ့သို့မှတ်ရမည်လော။ လုပ်အပ်သောအရာ
သည် လုပ်တတ်သောသူကို ရည်မှတ်၍၊ ဤသူ
သည်ငါ့ကိုမလုပ်ဟု ဆိုရမည်လော။ ဖန်ဆင်းအပ်
သောအရာသည် ဖန်ဆင်းတတ်သောသူကိုရည်
မှတ်၍၊ ဤသူ၌ ပညာအတတ်မရှိဟု ဆိုရမည်
လော။

၁၇ လေဗနုန်တောင်သည်ဝပြောသောလယ်ပြင်
ကဲ့သို့၄င်၊ ဝပြောသောလယ်ပြင်သည်တောကဲ့
၁၈ သို့၄င်ဖြစ်ရသောအမှုနီးပြီမဟုတ်လော။- ထို
ကာလ၌နားပင်းသောသူတို့သည်ကျမ်းစကား
ကိုကြားကြလိမ့်မည်။ မျက်စိကန်းသော သူတို့
သည် မှုန်ရှက်ခြင်း၊ မှောင်မိုက်ခြင်းနှင့် ကင်း
၁၉ လွတ်၍မြင်ကြလိမ့်မည်။-စိတ်နှိမ့်ချသောသူတို့
သည် ထာဝရဘုရားကိုအမှီပြု၍၊ ဝမ်းမြောက်
ခြင်း တိုးပွား ကြလိမ့် မည်။ လူတို့ တွင် ဆင်းရဲ
သောသူတို့သည် ဣသရေလ အမျိုး၏ သန့်ရှင်း
သောဘုရားကိုအမှီပြု၍ ရွှင်လန်းကြလိမ့်မည်။-
၂၀ အကြောင်းမူကား၊ ကြောက်မက်ဖွယ်သောသူ
သည်ဆုံးရှုံးရ၏။ ခဲ့ရေးသောသူသည် ပျောက်
ကုန်ရ၏။ လူအပြစ်ကို ချောင်းမြောင်းသောသူ၊-
၂၁ တရားတွေ့၍ ဆင်းရဲသားကို အပြစ် ရောက်စေ
သောသူ၊ မြို့တံခါးဝမှာအမှုသည်ကိုကျော့မိစေ
ခြင်းငှါပြုသောသူ၊အပြစ်မရှိသောသူကိုမတရား
သဖြင့် ရှုံးစေသော သူအပေါင်းတို့ကို သုတ်သင်
ပယ်ရှင်းရ၏။

၂၂ သို့ဖြစ်၍၊ အာဗြဟံအမျိုးကို ရွေးနှုတ်တော်
မူသောထာဝရဘုရားသည်၊ ယာကုပ်အမျိုးကို
ရည်မှတ်၍ မိန့်တော်မူသည်ကား၊ ယာကုပ်အ
မျိုးသည်နောက်တဖန်ရှက်ကြောက်ခြင်း၊ မျက်
၂၃ နှာပျက်ခြင်းမရှိရ။-ထိုအမျိုးသားတို့သည်ငါစီ
ရင်သောအမှုကိုမြင်လျှင်၊ ငါ့နာမကိုမိမိတို့တွင်ရို
သေ ကြလိမ့်မည်။ ယာကုပ် အမျိုး၏ သန့်ရှင်း
သော ဘုရား ကို ရိုသေ ၍၊ ဣသရေလ အမျိုး၏
၂၄ ဘုရားသခင်ကိုကြောက်ရွံ့ကြလိမ့်မည်။- စိတ်
သဘောဖောက်ပြန်သောသူတို့သည်ပညာသတိ
ကိုရကြ၍၊ ဆန့်ကျင်ဘက်ပြုသော သူတို့သည်
လည်း၊ ဆုံးမဩဝါဒ စကားကို နာယူ ကြ လိမ့်
မည်။

## ၃၀

၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဝုန်ကန်
သောအမျိုးသားတို့သည်အမင်္ဂလာရှိကြ၏။ သူ
တို့သည်ငါ့ကို အမှီမပြုဘဲ အကျင့်ချင်းတိုင်ပင်ကြ
၏။ ငါ့ဝိညာဉ်အခွင့်မရှိဘဲ မိဿဟာယဖွဲ့၍ အ
၂ ထပ်ထပ် အပြစ်ရောက်ကြ၏။- ဖာရောဘုရင်၏
ဘုန်းကို အမှီပြု၍၊ အဲဂုတ္တုအရိပ်ကို ခိုလှုံ ခြင်း
ငှါ၊ ငါ့နှုတ်ထွက်ကိုအခွင့်မပန်ဘဲ၊ အဲဂုတ္တုပြည်
၃ သို့ရောက်အောင်သွားကြ၏။-သို့ဖြစ်၍၊သင်တို့
သည် ဖာရော ဘုရင်၏ ဘုန်း ကို အမှီ ပြု သော
ကြောင့်ရှက်ကြောက်ကြလိမ့်မည်။ အဲဂုတ္တုအ
ရိပ်ကို ခိုလှုံသောကြောင့် မျက်နှာ ပျက်ကြလိမ့်
၄ မည်။-သူတို့မင်းတို့သည်ဇောနမြို့၌ရှိကြပြီ၊သံ
၅ တမန်တို့သည်ဟာနက်မြို့သို့ရောက်ကြပြီ။- အ
သုံးမဝင်၊ အကူအညီ မပေး၊ ကျေးဇူး မပြု နိုင်
ဘဲ ရှက် ကြောက်ခြင်း၊ အသရေ ပျက်ခြင်း အ
ကြောင်း သာ ဖြစ် သော လူမျိုးကို သူတို့ ရှိသမျှ
၆ သည်ရှက်ကြောက်ကြ၏။- ချင်သေ့မ၊ ချင်သေ့ဖို၊
မြွေဆိုး၊ ပျံတတ်သောမီးမြွေများသဖြင့်၊အလွန်
ခဲယဉ်း၍ ဆင်းရဲသောပြည်ကို ရှောက်လျက်၊
တောင် မျက်နှာသို့ သွားသော တိရစ္ဆာန် တို့ အ
ပေါ်မှာ တင်သောဝန်များကိုကြည့်ရှု ကြလော့။
မြည်းပေါ်မှာ ဥစ္စာ ပစ္စည်းများကို၄င်၊ ကုလား

ရောက်၏ ထိုပေါ်မှာ ထမ်းခွာ များကိုရုန် တင်၍၊
ကျေးဇူး မပြုနိုင်သောလူမျိုးထံသို့ ဆောင်သွား
၇ ကြသည်တကား။- အဲဂုတ္တုပြည်သည်အချည်း
နှီးသက်သက်၊အကျိုးမပေးနိုင်။ ထိုကြောင့်၊မ
လှုပ်ဘဲနေတတ်သောရာခပ်ထု ငါသမုတ်ပေ၏။
၈ သင်သည် ယခုသွား၍ သူတို့ရှေ့မှာသင်ပုန်း၌
ရေးထား၊ရေးသောအရာတို့၊နောင်ကာလအစဉ်အ
မြဲတည်စေခြင်းငှါ၊ စာ၌မှတ်သား ရေးသော
၉ အရှက်ပျက်ကြ၏။-ဤလူမျိုးသည်ပုန်ကန်တတ်
၏။မှောက်ပြန်သောအမျိုးသား၊ ထာဝရဘုရား
၏တရားတော်ကိုနားထောင်ခြင်းငှါအလိုမရှိသောအ
၁၀ မျိုးသား ဖြစ်ကြ၏။- သူတို့က လည်း၊ ဗျာဒိတ်
တော်ကိုမခံပါနှင့်ထု၊ ဗျာဒိတ်ခံသောသူတို့အား
ရုန်၊မှန်သောစကားကို ငါတို့အားမဟောပါနှင့်၊
ချော့မော့သော စကားကိုပြောကြပါ။ လှည့်စား
၁၁ သောစကားကိုဟောကြပါ။-လမ်းလွှဲကြပါ။မှန်
သော လမ်း ကို ရှောင်ကြပါ၊ ဣသရေလ အမျိုး
၏ သန့်ရှင်းသော ဘုရားကို ငါတို့ ရှေ့မှာ ကွယ်
ထားကြပါထု၊ ပရောဖက်တို့အားရုန် ဆိုတတ်
၁၂ ကြ၏။- သို့ဖြစ်၍၊ဣသရေလအမျိုး၏သန့်ရှင်း
သောဘုရားမိန့်တော်မူသည်ကား၊သင်တို့သည်
နှုတ်ကပတ် တော်ကိုပယ်၍၊ ညှဉ်းဆဲခြင်း၊ ယို
၁၃ ယွင်းခြင်းကိုသာ မှီဝဲမို့လျှံသောကြောင့်၊- သင်
တို့အပြစ်သည်ပြိုကျလုသောအုတ်မြို့ပျက်ကဲ့သို့
ရှင်၊ မြင့်သောအုတ်ထရံ၌ မညီမညွတ်ထွက်ဝင်
ထကဲ့သို့ဖြစ်လိမ့်မည်။ ထိုထရံသည်အလျင်
၁၄ အဆောတလျင်ပြိုပျက်တတ်၏။- မြေအိုးကွဲသ
ကဲ့သို့ ကွဲရ လိမ့်မည်။ ကွဲရာ တွင်လည်း၊ မီးဖိုထဲ
ကမီးခဲခံစရာအိုး၊ရေကန်ထဲကရေခပ်စရာအိုးဖိုး
ခြမ်း တခုမျှမရှိစေ ခြင်းငှါ၊ နှစ်မြောခြင်းမရှိဘဲ
ခွဲခြင်းကိုခံရလိမ့်မည်။
၁၅ ဣသရေလ အမျိုး၏ သန့်ရှင်းတော်မူသော
ဘုရား၊ အရှင်ထာဝရ ဘုရား မိန့်တော် မူသည်
ကား၊ သင်တို့သည် ပြောင်းလဲ၍ ငြိမ်ဝပ်စွာနေ
လျှင်၊ ကယ်တင်ခြင်းသို့ ရောက်ကြ လိမ့်မည်။
ငြိမ်ဝပ်စွာနေခြင်း၊ ယုံကြည်ခြင်းအားဖြင့် ခွန်
အားအစွမ်းကို ရကြလိမ့်မည်။ သင်တို့သည်ထို
၁၆ သို့သောအလို မရှိကြ။- ငါတို့သည်ထိုသို့မနေ၊
မြင်းစီး၍ပြေးမည်ဟုဆိုသောကြောင့်၊သူတပါး
တို့သည်သင်တို့ကိုပြေးစေမည်။ငါတို့သည်လျင်
မြန်စွာစီးသွားမည်ဟုဆိုသောကြောင့်၊ သင်တို့
ကို လိုက်သော သူ တို့ သည် လျင် မြန် ကြ လိမ့်
၁၇ မည်။- သင်တို့ တည့်တည့်တောင်ထိပ်ပေါ်မှာ မိုင်
တော့မှတ်တိုင်ကဲ့သို့ရုန်၊ ကုန်းပေါ်မှာ ထူထော
ထသော ကဲ့ သို့ ရှင် ဖြစ် ရ သည် တိုင် အောင်၊ တ
ယောက် သော သူ သည် ခြိမ်း လျှင်၊ ထောင်
သောသူတို့သည်ပြေးကြလိမ့်မည်။ ငါးယောက်
ခြိမ်းလျှင်၊တသောင်းပြေးကြလိမ့်မည်။
၁၈ ထို့ကြောင့်လည်း၊ ထာဝရဘုရားသည် သင်တို့
၌ကျေးဇူးပြုလိုသော ငှါ မျှော်လင့်တော်မူမည်။
ကရုဏာ ပြုလို သော ငှါ မြင့်မြတ်ခြင်းကို ခံ
တော်မူမည်။ အကြောင်းမူကား၊ထာဝရဘုရား
သည် တရား သော ဘုရားသခင် ဖြစ် တော် မူ၏။
ကိုယ် တော်ကို မျှော် လင့်သော သူအပေါင်း တို့
၁၉ သည်မင်္ဂလာရှိကြ၏။-ယေရုရှလင်မြို့၌နေသော
ဇိအုန်အမျိုး၊သင်သည်အစဉ်ငိုကြွေးရမည်မ
ဟုတ်။ သင်အော်ဟစ်သံကိုနားထောင်၍ ထိုသ
မ သနား တော် မူလိမ့် မည်။ ထို အသံကို ကြား
၂၀ သောအခါထူးတော်မူလိမ့်မည်။- ထာဝရဘုရား
သည်သင့်အား၊ရက္ခ ရန့်ကိုကျွေး၍၊ထင်းရဲခြင်း
ရေကိုတိုက်တော်မူသော်လည်း၊သင်၏ဆရာတို့
သည်နောက်တဖန်ပုန်းရှောင်၍မနေရကြ။ ကိုယ်
မျက်စိနှင့် ကိုယ် ဆရာ တို့ကို မြင်ရ လိမ့်မည်။-
၂၁ သင်သည် လက်ျာဘက်၊ လက်ဝဲဘက်သို့ လမ်း
လွှဲလျှင်၊ ဤမည်သောလမ်းသည်မှန်၏။ဤလမ်း
၌သွားလော့ဟု၊သင့်နောက်၌ပြောသောစကား
၂၂ သံကိုကိုယ်နားနှင့် ကြားရလိမ့်မည်။- ထုလုပ်
သောငွေရုပ်တုတန်ဆာနှင့်သွန်းသောရွှေရုပ်တု
တန်ဆာ များကို မရိုမသေ ပြု၍၊ ညစ်ညူး သော
အဝတ် ကဲ့သို့ ပြစ်ပယ်လျက်၊ သွားလော့ဟု ဆို
၂၃ ရ လိမ့် မည်။- သင်သည် လယ် ၌ ကြဲသော မျိုး
စေ့တို့ မိုဃ်းကို ရွာစေ တော် မူလိမ့်မည်။ မြေအ
သီး အ နှံ မှဖြစ်သော ရိက္ခာကို အလွန် ကြွယ်ဝစွာ
ပေးသနားတော်မူလိမ့်မည်။ ထိုအခါသင်၏သိုး
နွား တို့သည် ကျယ်သော ထ ရပ်၌ ကျက်စားရ
၂၄ ကြလိမ့်မည်။- စကောနှင့် ဆန်ခါဖြင့် သန့်ရှင်း
စေ၍၊ကောင်းမွန်စွာရောနှောသောစပါးကိုထော
မြေ၌ လုပ်သောနွားနှင့်မြည်းတို့သည်လည်း စားရ
၂၅ ကြလိမ့်မည်။- များစွာသောလူတို့ကို သတ်၍၊
ရဲ ဟိုက် တို့ သည် ပြိုလဲ သော အခါ၊ မြင့် သော
တောင်ရှိသမျှနှင့် ထင်ရှားသောကုန်းရှိသမျှတို့
အပေါ်မှာရေစီးရာမြစ်နှင့်ချောင်းများရှိကြလိမ့်
၂၆ မည်။-ထာဝရဘုရားသည်မိမိလူတို့၏ထိခိုက်ရှနာ
ရာကို ပြုပြင်၍၊ သူတို့ခံရသော ဒဏ်ချက်ရာတို့

ပျော့ကြ်စေတော်မူသောအခါ၊ လ၏အလင်းသည်
နေ၏အလင်းကဲ့သို့ ဖြစ်၍၊ နေ၏အလင်းသည်
ထည်းပကတိထက်ခုနှစ်ဆလင်းလိမ့်မည်။
၂၇ ကြည့်ရှုလော့၊ ထာဝရဘုရား၏ နာမတော်
သည် ဝေးသောအရပ်မှ လာ၏၊ အမျက်တော်
ထောင်၍မီးလျှံထုန်းလေ၏။ နှုတ်တော်သည်အ
မျက်နှင့်ပြည့်၍၊ လျှာတော်သည် မီးရှို့သကဲ့သို့
၂၈ ဖြစ်လေ၏။- ထွက်သက်တော်သည်လဉ်၊ လူမျိုး
တို့ကိုရှင်းရှင်းဖျက်ဆီးခြင်းငှါ၊ လွှမ်းမိုးသော
ရေကဲ့သို့ လည်ပင်းကိုမှီလိမ့်မည်။ လမ်းလွဲစေ
သောဇက်ကို သူတို့ပါးစပ်၌ ခွံ့တော်မူလိမ့်မည်။-
၂၉ သင်တို့သည် ပွဲခံသောနေ့ညဉ့်တွင် ပြုသကဲ့သို့
သီခြင်းဆိုရကြလိမ့်မည်။ ဣသရေလအမျိုး၏
ကျောက်၊ ထာဝရဘုရား၏တောင်တော်သို့ပုလွေ
မှုတ်လျက်သွားသကဲ့သို့ ဝမ်းမြောက်ရကြလိမ့်
မည်။- ထာဝရဘုရားသည် ထည်းဘုန်းကြီး
သော အသံတော်ကို ထွက်တော်မူလိမ့်မည်။
လက်ရုံးတော်သက်ရောက်ခြင်း၊ ပြင်းစွာအမျက်
ထွက်ခြင်း၊ မီးလျှံထောင်ခြင်း၊ မိုးသီးပါ
လျက်၊ မိုးသဲသက်မုန်တိုင်းများတို့ကိုပြတော်
၃၀ မူလိမ့်မည်။- သို့ဖြစ်၍၊ အာရှုရိလူသည်ထာဝရ
ဘုရား၏အသံတော်အားဖြင့်လှည်းချခြင်း၊ လှံတံ
တော်အားဖြင့်ဒါဏ်ခတ်ခြင်းကိုခံရလိမ့်မည်။-
၃၁ ထာဝရဘုရားမိရင်၍၊ သူ၏အပေါ်မှာလေးစွာ
ချထားတော်မူသောလှံတံသည် ရှောက်သွားရာ
ရာ၌စောင်း၊ ပတ်သာတီးခြင်းနှင့်တကွဖြစ်လိမ့်
မည်။ သူကိုပြင်းစွာစစ်တိုက်တော်မူလိမ့်မည်။-
၃၃ အကြောင်းမူကား၊ တောဖက်အရပ်သည်ရှေး
ကာလ၌ စီရင်လျက်ရှိ၏။ အကယ်စင်စစ် ရှင်
ဘုရင်အဖို့ပြင်ဆင်လျက်ရှိ၏။ နက်နဲကျယ်ပန်း
စေခြင်းငှါ ဝန်ဆင်းတော်မူပြီ၊ မီးနှို့ဘို့ ထင်းပုံ
ကြီးထည်းရှိ၏၊ ထာဝရဘုရား၏ ထွက်သက်
တော်သည်အရည်ကျိုသောကန့်ကဲ့သို့၊ ထိုထင်း
ပုံကိုမီးရှို့ရလိမ့်မည်။

၃၁

၁ စစ်ကူတောင်းထံ့သောငှါ အဲဂုတ္တုပြည်သို့
သွား၍၊ မြင်းတို့ကို အမှီပြုလျက် များစွာသော
ရထားတို့ကိုငှင်၊ အားကြီးသောမြင်းစီးသူရဲတို့
ကိုငှင်မှီလှုံ့လျက်၊ ဣသရေလအမျိုး၏သန့်ရှင်း
သောဘုရားကို မမျှော်လင့်၊ ထာဝရဘုရားကိုမ
ရှာဘဲနေသော သူတို့သည် အမင်္ဂလာရှိကြ၏။-
၂ ထိုဘုရားသည်ညာဏ်တော်ကျယ်၍၊ သူတို့အ
ပေါ်မှာဘေးကို သက်ရောက်စေတော်မူမည်။
စကားတော်မပျက်ဘဲ၊ ဆိုးသောလူမျိုးကိုငှင်၊ မ
တရားသဖြင့် ပြုသောသူတို့ထက်မှာနေသောသူ
၃ တို့ကိုငှင်တဖက်၌ထတော်မူမည်။- အဲဂုတ္တုပြည်
သားတို့သည်ဘုရားမဖြစ်၊ လူသက်သတ်ဖြစ်ကြ
၏။ သူတို့မြင်းသည်လည်းဝိညာဉ်မဖြစ်၊ အသား
သက်သက် ဖြစ်၏။ ထာဝရဘုရားသည် လက်
တော်ကို ဆန့်တော်မူသောအခါ၊ မစတတ်သော
သူသည် လဲလိမ့်မည်။ မစအပ်သော သူလည်း
ဆုံးလိမ့်မည်။ အလုံးစုံတို့သည် အတူပျက်စီး
၄ ခြင်းသို့ရောက်ကြလိမ့်မည်။- ထာဝရဘုရား
သည် ငါ့အားမိန့်တော်မူသည်ကား၊ ခြင်္သေ့နှင့်
ခြင်္သေ့သငယ်သည် လုယူရာအကောင်ပေါ်မှာ
နေသောအခါ၊ သိုးထိန်းအလုံးအရင်း၏ဆီး
တားအော်ဟစ်ခြင်းကိုမကြောက်၊ သူတို့ပြုသော
အသံဗလံအားဖြင့် အရှုံးမခံသကဲ့သို့၊ ထိုနည်း
တူ၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား
သည် ဇိအုန်တောင်တော်တည်းဟူသော၊ ဇိအုန်
တောင်တော်ထက်မှာ စစ်တိုက်ခြင်းငှါဆင်း
၅ သက်တော်မူလိမ့်မည်။- ငှက်သည်သားငယ်ကို
အုပ်ထားသကဲ့သို့၊ ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရားသည် ယေရုရှလင်မြို့ကိုကွယ်
ကာတော်မူမည်။ ကွယ်ကာစောင့်မ၍ အပြစ်မ
ပေး၊ ကယ်တင်တော်မူမည်။
၆ ဣသရေလအမျိုးသားတို့၊ သင်တို့သည်
အလွန်ဖွဲ့ရှောင်ပယ်ထားသော ဘုရားထံတော်
၇ သို့ပြန်လာကြလော့။ အကယ်စင်စစ်လူအပေါင်း
တို့သည်မိမိလက်ဖြင့် အသီးအသီးလုပ်သောငွေ
ရုပ်တု၊ ရွှေရုပ်တုတည်းဟူသော၊ ပြစ်မှားရာအ
ရာများကို ထိုကာလ၌ ပြစ်လိုက်ကြလိမ့်မည်။-
၈ အာရှုရိလူသည်ထည်း၊ ကြီးမြတ်သောသူ၏
ထားမဟုတ်သောထားဖြင့်ဆုံးလိမ့်မည်။ ယုတ်
သောသူ၏ ထားမဟုတ်သော ထားသည် သူကို
ဖျက်ဆီးလိမ့်မည်။ သူသည်လည်း ထားဘေးမှ
၉ ပြေး၍၊ သူရဲတို့သည်ကျွန်ခံရကြလိမ့်မည်။- သူ
သည်လည်းကြောက်လန့်သဖြင့်၊ မိမိခိုင်ခံ့သော
မြို့ကိုလွန်သွား၍၊ သူ၏မှူးမတ်တို့သည်နိမိတ်ကို
မြင်လျှင်မိတ်ပျက်ကြလိမ့်မည်ဟု၊ ဇိအုန်တောင်
ပေါ်မှာမီးလျှံ၊ ယေရုရှလင်မြို့၌မီးဖိုရှိသောထာ
ဝရဘုရားမိန့်တော်မူသတည်း။

၃၂

၁ ကြည့်ရှုလော့၊ တရားသဖြင့်အုပ်စိုးသောရှင်

ဘုရင် တပါးပေါ်၍ ထွန်းတော် မူလိမ့် မည်။ မင်း
သားမှူးမတ်တို့ သည်တရားသဖြင့်စီရင်ကြလိမ့်
၂ မည်။– ထိုမင်းတို့သည်လေထဲ၌ မိုဃ်းသက်မုန်
တိုင်းကွယ်ရာအရပ်ကဲ့သို့၎င်း၊ သွေ့ခြောက်သော
မြေ၌စီးသောချောင်းရေကဲ့သို့၎င်း၊ နေပူသောအ
ရပ်၌ ကျောက်လုံးကြီး အရိပ် ကဲ့သို့၎င်း ဖြစ်ကြ
၃ လိမ့်မည်။– မျက်စိမြင်သောသူတို့သည်ရှင်းထင်း
စွာမြင်ကြလိမ့်မည်။ နားကြားသောသူတို့သည်
၄ နားထောင်ကြလိမ့်မည်။– သတိမရှိသော သူ၏
စိတ်နှလုံးသည် ဆင်ခြင်၍ ပညာရှိလိမ့် မည်။
စကားအသောသူ၏ လျှာသည်လည်း စကားပြီ
၅ အောင်ပြောတတ်လိမ့်မည်။– ယုတ်သောသူကို
နောက်တဖန် အမြတ်ဟူ၍ ၎င်း၊ စေးနှဲသော သူ
ကိုလည်း နောက်တဖန် စွန့်ကြဲတတ်သောသူဟူ
၆ ၍၎င်း မခေါ်ရ။– အကြောင်းမူကား၊ ယုတ်သော
သူသည် လျှို့ဝှက် လျက်၊ ထာဝရဘုရားကို ရှုတ်
ဖြင့်ပြစ်မှားလျက်၊ မွတ်သိပ်သော သူကို ထား၍
ဆင်းရဲ စေခြင်းငှါ၎င်း၊ ရေငတ်သော သူကို ရေမ
သောက် စေခြင်းငှါ ၎င်း၊ ယုတ်သော စကား ကို
ပြော၍မကောင်းသောအကြံကိုကြံလေဦးမည်။–
၇ စေးနှဲ သော သူ သုံး ဆောင် ရာ တန် ဆာ သည်
လည်းဆိုးလှ၏။ ဆင်းရဲငတ်မွတ်သောသူ၏အမှု
သည် မှန်သော်လည်း၊ ထိုသို့သောသူကို မုသာ
စကား အား ဖြင့် ဖျက် ဆီး ခြင်း ငှါ၊ မကောင်း
၈ သောအကြံကိုသာကြံတတ်၏။–စေတနာရှိသော
သူမူကား၊ စေတနာ နှင့် ဆိုင် သော အကြံ တို့ကို
ကြံစည် တတ်၏။ စေတနာနှင့် ဆိုင် သော အရာ
များအားဖြင့်တည်ရလိမ့်မည်။
၉ ငြိမ်သက် စွာ နေသော မိန်းမတို့၊ ထကြ၍ ငါပြော
သံကိုကြားကြလော့။ သတိမရှိသောသမီး
၁၀ တို့၊ ငါ့စကားကိုနားထောင်ကြလော့။– သတိမရှိ
သောမိန်းမတို့၊ သင်တို့သည်တနှစ်လွန်မှ ပူပန်ကြ
လိမ့်မည်။ အကြောင်းမူကား၊ စပျစ်သီးကိုသိမ်း
ခြင်း အမှု ပြတ်လိမ့် မည်။ စပါး အသီးအနှံ ကို
၁၁ သိမ်း ရာကာလ မရောက်ရ။– ငြိမ် သက် စွာ နေ
သောမိန်းမတို့၊ တုန်လှုပ်ကြလော့။ သတိမရှိသော
သူတို့၊ ပူပန်ခြင်းရှိကြလော့။ အဝတ်တန်ဆာရှိ
သမျှ တို့ကို ပယ် ချွတ် ပြီးမှ၊ ခါး၌ လျှော် တေအ
၁၂ ဝတ်ကို စည်းကြ လော့။– ရင်ပတ်ကို ခတ်ခြင်း၊
သာယာ သော လယ် ယာ နှင့် အသီး များ သော
စပျစ် နွယ်ပင် အတွက် ညည်း တွားခြင်း ရှိလိမ့်
၁၃ မည်။– ငါလူတို့၏မြေကိုလည်း၊ ဝမ်းမြောက် သော
အိမ်နှင့် ရွှင်လန်းသော မြို့ကိုလည်း၊ ဆူးပင်အမျိုး
၁၄ မျိုးတို့သည်တက်၍လွှမ်းမိုးကြလိမ့်မည်။– ဘုံ
ဗိမာန်တို့ကိုစွန့်ပြစ်၍ မြို့၏ အသံဗလံငြိမ်းလိမ့်
မည်။ ဩဖေလကုန်းနှင့်ရဲတိုက်တို့သည်အစဉ်
မြေတွင်းနှင့်ပြည့်စုံ၍၊ ရိုင်းသောမြည်းပျော်မွေ့ရာ၊
၁၅ သိုးစု ကျက်စားရာ ဖြစ်ကြ လိမ့်မည်။– ဝိညာဉ်
တော်သည် ကောင်းကင်မှ ငါတို့အပေါ်သို့ သွန်း
လောင်း၍၊ တောသည် အသီး အနှံ များ သော
လယ်ဖြစ်၍၊ အသီးအနှံ များသော လယ်သည်
တောအုပ် ကဲ့သို့ မှတ်ရသော ကာလ မရောက်မှီ
၁၆ တိုင်အောင်၊ ထိုသို့ဖြစ်ကြ လိမ့်မည်။– ထိုအခါ
တော၌ ကား၊ တရားသဖြင့် စီရင် ခြင်း တည်၍၊
အသီးအနှံ များသောလယ်၌ကား၊ ဖြောင့်မတ်
၁၇ ခြင်းပါရမီသည်အမြဲနေရလိမ့်မည်။–ဖြောင့်မတ်
ခြင်းတရား သည်လည်း၊ ငြိမ်သက်ခြင်းကို ပြုစု
လိမ့်မည်။ ဖြောင့်မတ်ခြင်း အကျိုးမူကား၊ ထာ
၁၈ ဝရငြိမ်သက်ခြင်းနှင့် လုံချုံခြင်းတည်း။– ငါ၏
လူတို့သည်လည်း၊ ငြိမ်သက်သောနေရာ၊ လုံချုံ
သောမြို့ရွာ၊ အေးလွတ်သောချမ်းသာရာအရပ်
၁၉ တို့၌ နေရကြလိမ့်မည်။– သို့ရာတွင်၊ မိုဃ်းသီး
ကျသဖြင့် တောအုပ် ကို လှည်း၍၊ မြို့ကိုလည်း
၂၀ မြေနှင့်တညီတည်း ဖြိုဖျက်လိမ့်မည်။– ရေရှိရာ
အရပ်ရပ် တို့၌ မျိုးစေ့ကိုကြဲ၍၊ နွားခြေနှင့် မြ
ခြေတို့ကိုလွှတ်တတ်သော သင်တို့သည် မင်္ဂလာ
ရှိကြ၏။

၃၃

၁ သူ့ အ ပါး လုယူ ခြင်းကို မခံဘဲ လျက်၊ လုယူ
တတ်သောသူ၊ သူတပါးဖျက်ဆီးခြင်းကိုမခံဘဲ
လျက်၊ ဖျက်ဆီးတတ်သောသူ၊ သင်သည်အမင်္ဂ
လာရှိ၏။ သင်သည်မလုမယူဘဲနေသောအခါလု
ယူခြင်းကိုခံရမည်။ ဖျက်ဆီး၍ မောသော အခါ
ဖျက်စီးခြင်းသို့ရောက်လိမ့်မည်။
၂ အိုထာဝရဘုရား၊ အကျွန်ုပ်တို့ကို သနားတော်
မူပါ။ အကျွန်ုပ်တို့သည်ကိုယ်တော်ကိုမျှော်လင့်
ကြပါ၏။ နံနက်တိုင်း အကျွန်ုပ်တို့၌ ခွန်အားကို
ပေးတော်မူပါ။ အမှုရောက်သောအခါ၊ အကျွန်ုပ်
တို့ကိုကယ်တင်တော်မူပါ။
၃ အလုံးအရင်း၏ အသံကြောင့်၊ လူစုတို့သည်
ပြေးကြ၏။ ထတော်မူသောအခါ၊ လူမျိုးတို့သည်
၄ အရပ် ရပ် ကွဲပြား ကြ ၏။– သူတပါး တို့သည်
သင်တို့၏ ဥစ္စာကိုကျိုင်းကောင်သိမ်းယူသကဲ့သို့
သိမ်းယူကြလိမ့်မည်။ ကျိုင်းကောင်တို့သည်လူး

ထားခြေးသကဲ့သို့၊ ထင်ရှိုး၏ဥစ္စာပေါ်မှာသူးထော
ခြေးကြလိမ့်မည်။
၅ ထာဝရဘုရားသည် ချီးမြှောက်ခြင်းရှိတော်
မူ၏။ မြင့်သောအရပ်၌နေတော်မူ၏။ ဇိအုန်မြို့ကို
တရားသဖြင့်ဆုံးဖြတ်ခြင်း၊ ဖြောင့်မတ်စွာစီရင်
၆ ခြင်းနှင့် ပြည့်စေတော်မူ၏။- ဉာဏ်နှင့် ပညာ
သည်သင်၏ထက်ထတ်၌တည်ကြည်ခြင်း၊ မြဲမြံ
စွာထယ်တင်ခြင်းကို ဖြစ်စေလိမ့်မည်။ ထာဝရ
ဘုရားကို ကြောက်ရွံ့ခြင်း၊ ထထောသည် ထည်း
သင်၏ဘဏ္ဍာဖြစ်လိမ့်မည်။
၇ သူရဲတို့သည်ပြင်၌အော်ဟစ်ကြ၏။ မိထာဟာ
ထစကားကိုပြောသောတမန်တော်တို့သည် ပြင်း
၈ စွာငိုကြွေးကြ၏။- လမ်းမတို့သည် ဆိတ်ညံကြ
၏။ ထမ်းခရီး၌ သွားလာသော သူမရှိ။ ထိုမင်း
သည် သစ္စာပျက်ထေပြီ။ မြို့များကိုထည်း ပယ်
ထေပြီ။ အထယ်သူ၏မှတ်နှာကို မမှတ်တတ်။-
၉ ပြည်တော်သည် ငိုကြွေး၍ အားလျော့၏။ လေဗ
နုန်တောသည် ရှက်ကြောက်၍ နွမ်းရိ၏။ ရှာ
ရုန်အရပ်သဉ်တောကဲ့သို့ဖြစ်၏။ ဗာရှန်တောင်
နှင့်ကရမေထတောင်သည်လျှော်ရှား၏။
၁၀ ထာဝရဘုရား၊ မိန့်တော်မူသည်ကား၊ ယခုငါ
ထမည်။ ထခုရှိုးမြှောက် ခြင်းသို့ ရောက် မည်။
၁၁ ကိုယ်ကို ကိုယ် ချီးမြှောက်မည်။- သင်တို့သည်
ဖွဲကို ကိုယ် ဝန် ဆောင် ၍ အမှိုက်ကို ဖွား မြင်ရ
ထိမ့်မည်။ သင်တို့စိတ် သထောသည်မီးဖြစ်၍၊
၁၂ သင်တို့ကို ဖျက်ဆီးလိမ့်မည်။- လူများတို့သည်
ထုံးကျောက်ကိုဖုတ်သကဲ့သို့၎င်း၊ ဆူးပင်များကို
၁၃ ခုတ်၍မီးရှို့သကဲ့သို့၎င် ဖြစ်ကြလိမ့်မည်။- ဝေး
သောသူတို့၊ ငါပြုသောအမှုကိုမှတ်ကြလော့၊ နီး
၁၄ သောသူတို့၊ တန်ခိုးကိုဝန်ခံကြလော့။- အပြစ်
ရှိသော ဇိအုန်မြို့သားတို့သည် ကြောက်ကြ၏။
အစစ္စပြုသောသူတို့သည်ထိတ်လန့်ကြ၏။ ငါတို့
တွင် အဘယ်သူသည်လောင်သော မီးထဲမှာနေ
ရမည်နည်း။ ငါတို့တွင်အဘယ်သူသည်ထာဝရ
မီးလောင်ခြင်းကိုခံလျက်နေရမည်နည်း။
၁၅ တရားသဖြင့် ကျင့်၍ ဖြောင့် မတ်စွာ ပြောထ
သော၊ ညှဉ်းဆဲခြင်း၊ အားဖြင့်ရသော ငွေကို ရွံ့
၍၊ တံစိုးကိုထဉ်းငြင်းပယ်ထသော၊ လူအသက်
သတ်ခြင်းအမှုကို နားမခံ၊ အဓမ္မအမှုများကို မ
ကြည့်မရှုသော သူသည် မြင့်သောအရပ်၌ နေ
၁၆ ထိမ့်မည်။- မိုင်ခံ့သော ကျောက်မြို့၌ ခိုလှုံ လိမ့်
မည်။ ထိုသူအားအစာကိုအစဉ်ပေးရလိမ့်မည်။

၁၇ သောတ်ရေ ထည်း မပြတ်ရ။- သင် သည် ရှင်
ဘုရင်၏တင့်တယ်ခြင်း၊ အသရေတော်ကို ကိုယ်
မျက်စိနှင့်မြင်ရ၍၊ ဝေးသောပြည်ကို ထည်း
၁၈ ကြည့်မြင်ရလိမ့်မည်။-သင်သည်ကြောက်လန့်
ဖွယ်သောအခြင်းအရာကို အောင်းမေ့သော အ
ခါ၊ စာရင်း ယူသော သူသည် အဘယ်မှာ ရှိသ
နည်း။ အခွန် ခံသောသူသည် အဘယ်မှာ ရှိသ
နည်း။ ပြအိုးတို့ကို ရေတွက် သော သူ သည် အ
၁၉ ဘယ်မှာရှိသနည်း။ ကြမ်းတမ်းသောလူမျိုး၊ နား
မဝင်နိုင်အောင် နက်နဲသောစကား၊ နားမထည်
နိုင်အောင် ခက်ခဲသောစကားကို ပြောသောလူ
၂၀ မျိုးကိုသင်သည်မတွေ့မမြင်ရ။- ငါတို့ပွဲခံရာမြို့၊
ဇိအုန်မြို့ကိုကြည့်ရှုလော့၊ တိုင်တစုမျှမနှုတ်၊ ကြိုး
တစုမျှမပြတ်၊ အလျှင်းမပျက်ရ သောတဲတည်း
ဟူသော၊ ငြိမ်ဝပ်သောနေရာ ယေရုရှလင်မြို့ကို
၂၁ ကိုယ်မျက်စိနှင့်မြင်ရလိမ့်မည်။-ထိုမြို့တွင်ဘုန်း
ကြီးသောထာဝရဘုရားသဉ်ငါတို့၌ကျယ်သော
မြစ်များဆိုရာအရပ်ဖြစ်တော်မူလိမ့်မည်။ ထိုအ
ရပ်၌တက်သောရဲလှေ၊ အားကြီးသောသင်္ဘော
၂၂ တစင်းမျှမရှောက်မသွားရ။-အကြောင်းမူကား
ထာဝရဘုရားသည် ငါတို့၏တရား သူကြီး ဖြစ်
တော်မူ၏။ ထာဝရဘုရားသည် ငါတို့၏ပညတ်
တရားရှင်ဖြစ်တော်မူ၏။ ထာဝရဘုရားသည်ငါ
တို့၏ရှင်ဘုရင်ဖြစ်၍၊ ငါတို့ကိုကယ်တင်တော်မူ
လိမ့်မည်။
၂၃ သင်၏သင်္ဘောကြိုးကြီးများပြုတ်လျှက်ရှိ၏။
ရွက်တိုင်ကိုခိုင်ခံ့စွာမချည်၊ ရွက်ကိုလည်းမဖြန့်
နိုင်းသို့ဖြစ်၍၊ များစွာသောဥစ္စာကို လုယူဝေငှ
ရ၏၊ ခြေဆွံ့သောသူပင် လုယူရာဥစ္စာကို ထုယူရ
၂၄ ၏။- မြို့သားကလည်း၊ ငါနာသည်ဟုမဆိုရ၊ ထို
မြို့၌ နေသောသူတို့သည် အပြစ်ဖြေ ရှင်းခြင်းသို့
ရောက်ရကြလိမ့်မည်။

၃၄

၁ ဗိုလ်လူမျိုးတို့၊ သင်တို့သည်ကြားရမည့်အောင်ရှ
ချည်းကပ်ကြလော့၊ ဗိုလ်လူစုတို့၊ နားထောင်ကြ
လော့။ မြေကြီးနှင့်မြေကြီး၌ ပါသမျှသောအရာ၊
လောကဓာတ် နှင့် လောကဓာတ် တန်ဆာ ခပ်
၂ သိမ်းတို့သည်ကြားကြပါစေ။-ထာဝရဘုရား၏
အမျက်တော်သည်လူမျိုးအပေါင်းတို့၌ထွက်၍၊
ပြင်းစွာသောအမျက်တော်သည်သူတို့အထုံးအ
ရင်းအပေါ်မှာသင့်ရောက် ထေ၏။ သူတို့ကိုရှင်း
ရှင်း ဖျက်ဆီး၍၊ အသေ သတ်ခြင်း၌ အပ်သိုက်

တုရင် ဘုရင်သည် ဖြောင့်မတ်ခြင်းနှင့် အုပ်စိုးတော်မူလိမ့် မည်။ မင်း
သားမှူးမတ်တို့သည်တရားသဖြင့်စီရင်ကြလိမ့်
၂ မည်။- ထိုမင်းတို့သည်လေလုံ၍မိုဃ်းသက်ရုန်
တိုင်းကွယ်ရာအရပ်ကဲ့သို့၎င်း၊သွေ့ခြောက်သော
မြေ၌စီးသောချောင်းရေကဲ့သို့၎င်း၊ နေပူသောအ
ရပ်၌ ကျောက် လုံးကြီး အရိပ် ကဲ့ သို့၎င် ဖြစ်ကြ
၃ လိမ့်မည်။-မျက်စိမြင်သောသူတို့သည်ရှင်းလင်း
စွာမြင်ကြလိမ့်မည်။နားကြားသောသူတို့လည်း
၄ နားထောင်ကြ လိမ့်မည်။- သတိမရှိသော သူ၏
စိတ်နှလုံးသည် ဆင်ခြင်၍ ပညာရှိလိမ့် မည်။
စကားအသောသူ၏ လျှာသည်လည်း စကားပြီ
၅ ထောင်ပြောတတ်လိမ့်မည်။- ယုတ်သောသူကို
နောက်တဖန် အမြတ်ဟူ၍ ၎င်၊ စေးနှဲသော သူ
ကိုလည်းနောက်တဖန် စွန့်ကြဲတတ်သောသူဟူ
၆ ၍၎င် မခေါ်ရ။- အကြောင်းမူကား၊ ယုတ်သော
သူသည် လျှို့ဝှက် လျက်၊ ထာဝရဘုရားကို ရှုတ်
ချ်ပြစ်မှားလျက်၊ မွတ်သိပ်သော သူကို ထား၍
ဆင်းရဲ စေခြင်းငှါ၎င်၊ ရေငတ်သော သူကို ရေမ
သောက် စေခြင်းငှါ ၎င်၊ ယုတ်သော စကား ကို
ပြော၍မကောင်းသောအကြံကိုကြံလေဦးမည်။-
၇ စေး နှဲ သော သူ သုံး သောဝ် ရာ တန် ဆာ သည်
လည်းဆိုးလှ၏။ဆင်းရဲငတ်မွတ်သောသူ၏အမှု
သည် မှန်သော်လည်း၊ ထိုသို့သောသူကို မုသာ
စကား အားဖြင့် ဖျက် ဆီး ခြင်း ငှါ၊ မ ကောင်း
၈ သောအကြံကိုသာကြံတတ်၏။-စေတနာရှိသော
သူမူကား၊ စေတနာနှင့် ဆိုင် သော အကြံ တို့ကို
ကြံစည် တတ်၏။ စေတနာနှင့် ဆိုင် သော အရာ
များအားဖြင့်တည်ရလိမ့်မည်။
၉ ငြိမ်သက် စွာ နေသော မိန်းမတို့၊ ထကြ။ ငါ့ပြော
သံကိုကြားကြလော့။ သတိမရှိသောသတို့ သမီး
၁၀ တို့၊ ငါ့စကားကိုနားထောင်ကြလော့။- သတိမရှိ
သောမိန်းမတို့၊ သင်တို့သည်တနှစ်လွန်မှ ပူပန်ကြ
လိမ့်မည်။ အကြောင်းမူကား၊ စပျစ်သီးကိုသိမ်း
ခြင်း အမှု ပြတ်လိမ့် မည်။ စပါး အသီးအနှံ ကို
၁၁ သိမ်း ရာကာလ မရောက်ရ။- ငြိမ် သက် စွာ နေ
သောမိန်းမတို့၊တုန်လှုပ်ကြလော့။ သတိမရှိသော
သူတို့၊ ပူပန်ခြင်းရှိကြလော့။ အဝတ်တန်ဆာရှိ
သမျှ တို့ကို ပယ် ချွတ် ပြီးမှ၊ ခါး၌ လျှော် တေအ
၁၂ ဝတ်ကို စည်းကြ လော့။- ရင်ပတ်ကို ခတ်ခြင်း၊
သာယာ သော လယ် ယာ နှင့် အသီး များ သော
စပျစ် နွယ်ပင် အတွက် ညည်း တွားခြင်း ရှိလိမ့်
၁၃ မည်။- ငါ့လူတို့၏မြေကိုရင်၊ ဝမ်းမြောက် သော

အိမ်နှင့် ရွှင်လန်းသော မြို့ကိုရင်၊ ဆူးပင်အမျိုး
၁၄ မျိုးတို့သည်တက်၍လွှမ်းမိုးကြလိမ့်မည်။- ဘုံ
ဗိမာန်တို့ကိုစွန့်ပြစ်၍မြို့၏ အသံဗလံငြိမ်းလိမ့်
မည်။ ဩဖေလကုန်းနှင့်ရဲတိုက်တို့သည်အစဉ်
မြေတွင်းနှင့်ပြည့်စုံ၍၊ မိုင်းသောမြည်းပျော်မွေ့ရာ၊
၁၅ သိုးစု ကျက်စားရာ ဖြစ်ကြ လိမ့်မည်။- ဝိညာဉ်
တော်သည် ကောင်းကင်မှ ငါတို့အပေါ်သို့ သွန်း
လောင်း၍၊ တောသည် အသီး အနှံ များ သော
လယ်ဖြစ်၍၊ အသီးအနှံ များသော လယ်သည်
တောအုပ် ကဲ့သို့ မှတ်ရသော ကာလ မရောက်မှီ
၁၆ တိုင်အောင်၊ ထိုသို့ဖြစ်ကြ လိမ့်မည်။- ထိုအခါ
တော၌ ကား၊ တရားသဖြင့် စီရင် ခြင်း တည်၍၊
အသီးအနှံ များသောလယ်၌ကား၊ ဖြောင့်မတ်
၁၇ ခြင်းပါရမီသည်အမြဲနေရလိမ့်မည်။-ဖြောင့်မတ်
ခြင်းတရား သည်လည်း၊ ငြိမ်သက်ခြင်းကို ပြုစု
လိမ့်မည်။ ဖြောင့်မတ်ခြင်း အကျိုးမူကား၊ ထာ
၁၈ ဝရငြိမ်သက်ခြင်းနှင့် လုံချုံ ခြင်းတည်း။- ငါ၏
လူတို့သည်လည်း၊ ငြိမ်သက်သောနေရာ၊လုံချုံ
သောမြို့ရွာ၊ ထေးလွတ်သောချမ်းသာရာအရပ်
၁၉ တို့၌ နေရကြလိမ့်မည်။- သို့ရာတွင်၊ မိုဃ်းသီး
ကျသဖြင့် တောအုပ် ကို လှည်း၍၊ မြို့ကိုလည်း
၂၀ မြေနှင့်တညီတည်း ဖြိုဖျက်လိမ့်မည်။- ရေရှိရာ
အရပ်ရပ် တို့၌ မျိုးစေ့ကိုကြဲ၍၊ နွားမြည်းနှင့် မြ
ခြေတို့ကိုလွှတ်တတ်သော သင်တို့သည် မင်္ဂလာ
ရှိကြ၏။

၃၃

၁ သူ ဘာ ပါး လုယူ ခြင်းကို မခံဘဲ လျက်၊ လုယူ
တတ်သောသူ၊ သူတပါးဖျက်ဆီးခြင်းကိုမခံဘဲ
လျက်၊ ဖျက်ဆီးတတ်သောသူ၊ သင်သည်အမင်္ဂ
လာရှိ၏။သင်သည်မလုမယူဘဲနေသောအခါလု
ယူခြင်းကိုခံရမည်။ ဖျက်ဆီး၍ ပြေသော အခါ
ဖျက်ဆီးခြင်းသို့ရောက်လိမ့်မည်။
၂ အိုထာဝရဘုရား၊ အကျွန်ုပ်တို့ကို ထနားတော်
မူပါ။အကျွန်ုပ်တို့သည်ကိုယ်တော်ကိုမျှော်လင့်
ကြပါ၏။ နံနက်တိုင်း အကျွန်ုပ်တို့၌ ခွန်အားကို
ပေးတော်မူပါ။အမှုရောက်သောအခါ၊အကျွန်ုပ်
တို့ကိုကယ်တင်တော်မူပါ။
၃ အလုံးအရင်း၏ အသံကြောင့်၊ လူစုတို့သည်
ပြေးကြ၏။ထတော်မူသောအခါ၊လူမျိုးတို့သည်
၄ အရပ် ရပ် ကွဲပြား ကြ ၏။- သူတပါး တို့ သည်
သင်တို့၏ ဥစ္စာကိုကျိုင်းကောင်သိမ်းယူသကဲ့သို့
သိမ်းယူကြလိမ့်မည်။ ကျိုင်းကောင်တို့သည်ယူ

ထာခြေးသကဲ့သို့၊ သင်တို့၏ဥစ္စာပေါ်မှာလူတို့ထာ
ခြေးကြလိမ့်မည်။
၅ ထာဝရဘုရားသည် ချီးမြှောက်ခြင်းကိုခံတော်
မူ၏။ မြင့်သောအရပ်၌နေတော်မူ၏။ ဇိအုန်မြို့ကို
တရားသဖြင့်ဆုံးဖြတ်ခြင်း၊၊ဖြောင့်မတ်စွာစီရင်
၆ ခြင်းနှင့် ပြည့်စေတော်မူ၏။- ဉာဏ်နှင့် ပညာ
သည်သင်၏ထတ်ထတ်၌တည်ကြည်ခြင်း၊၊ မြဲမြံ
စွာထတ်တင်ခြင်းကို ဖြစ်စေလိမ့်မည်။ ထာဝရ
ဘုရားကို ကြောက်ရွံ့ခြင်းသဘောသည် လည်း
သင်၏ဘဏ္ဍာဖြစ်လိမ့်မည်။
၇ သူရဲတို့သည်ပြင်၌အော်ဟစ်ကြ၏။ မိဿဟာ
ယအကြောင်းကိုပြောသောတမန်တော်တို့သည် ပြင်း
၈ စွာငိုကြွေးကြ၏။- လမ်းမတို့သည် ဆိတ်ညံကြ
၏။ လမ်းခရီး၌ သွားလာသော သူမရှိ။ ထိုမင်း
သည် သစ္စာဖောက်လေပြီ။ မြို့များကိုလည်း ပယ်
လေပြီ။ အဘယ်သူ၏မျက်နှာကို မမှတ်တတ်။-
၉ ပြည်တော်သည် ငိုကြွေး၍ အားလျော့၏။ လေဗ
နုန်တောသည် ရှက်ကြောက်၍ နွမ်းမြိုင်၏။ ရှာ
ရုန်အရပ်သည်တောကဲ့သို့ဖြစ်၏။ ဗာရှန်တောင်
နှင့်ကရမေလတောင်သည်ရှုပ်ရှား၏။
၁၀ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ယခုငါ
ထမည်။ ယခုချီးမြှောက်ခြင်းသို့ ရောက်မည်။
၁၁ ကိုယ်ကို ကိုယ် ချီးမြှောက်မည်။- သင်တို့သည်
ဖွဲကို ကိုယ်ဝန်ဆောင်၍ အမှိုက်ကို ဖွားမြင်ရ
လိမ့်မည်။ သင်တို့စိတ် သဘောသည်မီးဖြစ်၍၊
၁၂ သင်တို့ကို ဖျက်ဆီးလိမ့်မည်။- လူများတို့သည်
ထုံးကျောက်ကိုဖုတ်သကဲ့သို့၎င်း၊ ဆူးပင်များကို
၁၃ ခုတ်၍မီးရှို့သကဲ့သို့၎င်း ဖြစ်ကြလိမ့်မည်။- ဝေး
သောသူတို့၊ ငါပြုသောအမှုကိုမှတ်ကြလော့။ နီး
၁၄ သောသူတို့၊ တန်ခိုးကိုဝန်ခံကြလော့။- အပြစ်
ရှိသော ဇိအုန်မြို့သားတို့သည် ကြောက်ကြ၏။
အဓမ္မပြုသောသူတို့သည်ထိတ်လန့်ကြ၏။ ငါတို့
တွင် အဘယ်သူသည်လောင်သော မီးထဲမှာနေ
ရမည်နည်း၊၊ ငါတို့တွင်အဘယ်သူသည်ထာဝရ
မီးလောင်ခြင်းကိုခံလျက်နေရမည်နည်း၊၊
၁၅ တရားသဖြင့် ကျင့်၍ ဖြောင့်မတ်စွာ ပြောတ
သော၊ ညှဉ်းဆဲခြင်းအားဖြင့်ရသော ငွေကို ရွံ
၍၊ တံစိုးကိုလဉ်းခြင်းပယ်ထသော၊ လူအသတ်
သတ်ခြင်းအမှုကို နားမခံ၊ အဓမ္မအမှုများကို မ
ကြည့်မရှုသော သူသည် မြင့်သောအရပ်၌ နေ
၁၆ လိမ့်မည်။- ခိုင်ခံ့သော ကျောက်မြို့၌ ခိုလှုံ လိမ့်
မည်။ ထိုသူအားအစာကိုအစဉ်ပေးရလိမ့်မည်။
၁၇ သောက်ရေ လည်း မပြတ်ရ။- သင် သည် ရှင်
ဘုရင်၏တင့်တယ်ခြင်း၊ အသရေတော်ကို ကိုယ်
မျက်စိနှင့်မြင်ရ၍၊ ဝေးလှသောပြည်ကို လည်း
၁၈ ကြည့်မြင်ရလိမ့်မည်။- သင်သည်ကြောက်လန့်
ဖွယ်သောအခြင်းအရာကို အောက်မေ့သော အ
ခါ၊ စာရင်း ယူသော သူသည် အဘယ်မှာ ရှိသ
နည်း၊၊ အခွန် ခံသောသူသည် အဘယ်မှာ ရှိသ
နည်း။ ပြအိုးတို့ကို ရေတွက်သော သူ သည် အ
၁၉ ဘယ်မှာရှိသနည်း၊၊ ကြမ်းတမ်းသောလူမျိုး၊ နား
မဝင်နိုင်အောင် နက်နဲသောစကား၊ နားမလည်
နိုင်အောင် ခက်ခဲသောစကားကို ပြောသောလူ
၂၀ မျိုးကိုသင်သည်မတွေ့မမြင်ရ။- ငါတို့ပွဲခံရာမြို့၊
ဇိအုန်မြို့ကိုကြည့်ရှုလော့။ တိုင်တစုမျှမနှုတ်၊ ကြိုး
တစုမျှမပြတ်၊ အလျှင်းမဖျက်ရသောတဲတည်း
ဟူသော၊ ငြိမ်ဝပ်သောနေရာ ယေရုရှလင်မြို့ကို
၂၁ ကိုယ်မျက်စိနှင့်မြင်ရလိမ့်မည်။- ထိုမြို့တွင်ဘုန်း
ကြီးသောထာဝရဘုရားသည်ငါတို့၌ကျယ်သော
မြစ်များဆိုရာအရပ်ဖြစ်တော်မူလိမ့်မည်။ ထိုအ
ရပ်၌တက်သောရဲလှေ၊ အားကြီးသောသင်္ဘော
၂၂ တစင်းမျှမရှောက်မသွားရ။- အကြောင်းမူကား
ထာဝရဘုရားသည် ငါတို့၏တရား သူကြီး ဖြစ်
တော်မူ၏။ ထာဝရဘုရားသည် ငါတို့၏ပညတ်
တရားရှင်ဖြစ်တော်မူ၏။ ထာဝရဘုရားသည်ငါ
တို့၏ရှင်ဘုရင်ဖြစ်၍၊ ငါတို့ကိုကယ်တင်တော်မူ
လိမ့်မည်။
၂၃ သင်၏သင်္ဘောကြိုးများပြတ်လျက်ရှိ၏။
ရွက်တိုင်ကိုခိုင်ခံ့စွာမချည်၊ ရွက်ကိုလည်းမဖြန့်
နိုင်၊ သို့ဖြစ်၍၊ များစွာသောဥစ္စာကို လုယူဝေငှ
ရ၏။ ခြေဆွံ့သောသူပင် လုယူရာဥစ္စာကို လုယူရ
၂၄ ၏။- မြို့သားကလည်း၊ ငါနာသည်ဟုမဆိုရ။ ထို
မြို့၌ နေသောသူတို့သည် အပြစ်ဖြေရှင်းခြင်းသို့
ရောက်ရကြလိမ့်မည်။

၃၄

၁ အိုလူမျိုးတို့၊ သင်တို့သည်ကြားရအံ့သောငှါ
ချဉ်းကပ်ကြလော့။ အိုလူစုတို့၊ နားထောင်ကြ
လော့။ မြေကြီးနှင့်မြေကြီး၌ ပါသမျှသောအရာ၊
လောကဓာတ် နှင့် လောကဓာတ် တန်ဆာ ခပ်
၂ သိမ်းတို့သည်ကြားကြပါစေ။- ထာဝရဘုရား၏
အမျက်တော်သည်လူမျိုးအပေါင်းတို့၌ထွက်၍၊
ပြင်းစွာသောအမျက်တော်သည်သူတို့အလုံးအ
ရင်းအပေါ်မှာသင့်ရောက်လေ၏။ သူတို့ကိုရှင်း
ရှင်း ဖျက်ဆီး၍၊ အသေသတ်ခြင်း၌ အပ်သိုက်

၃ တော်မူ၏။– သူတို့တွင်အသေခံရသော သူတို့ကို
ပြင်သို့ ပြစ်ထိုက်သဖြင့်၊ အသေကောင် တို့သည်
နံစော်၍၊ သူတို့၏အသွေးမြင့်တောင်တို့သည်အ
၄ ရည်ဖြစ်ကြလိမ့်မည်။– ခပ်သိမ်းသော ကောင်း
ကင်တန်ဆာတို့သည်ပြုတ်၍၊မိုဃ်းကောင်းကင်
သည်စာလိပ်ကဲ့သို့ လိပ်လျက်ရှိလိမ့်မည်။ စပျစ်
နွယ်ပင်မှ အရွက် ကျသ ကဲ့သို့ ၎င်း၊ သဖန်းသ
ဖန်းပင်မှ အသီးကျသကဲ့သို့၎င်း၊ ခပ်သိမ်းသော
ကောင်းကင်တန်ဆာတို့သည် ကျကြလိမ့်မည်။–
၅ အကြောင်း မူကား၊ ငါ့ထားသည် ငိုဃ်းကောင်း
ကင်၌ ရောင့်ရဲပြီးမှ၊ တဖန် ဧဒုံပြည် အပေါ်မှာ
၎င်း၊ငါကျိန်သောလူများတို့အပေါ်မှာ၎င်း၊စီရင်
၆ ခြင်းငှါ ရောက်လိမ့်မည်။– ထာဝရဘုရား၏
ထားတော်သည်အသွေးနှင့်ဝပြီ။ဆီဥနှင့်ဆူပြီ၊
ထိုးသငယ် နှင့်ဆိတ်တို့၏အသွေး၊ သိုးထီးတို့၏
ကျောက်ကပ် ဆီဥနှင့် ဆူဝ ပြီ၊ ထာဝရ ဘုရား
သည်ဗောဇရမြို့၌ယဇ်ပွဲကို၎င်း၊ ဧဒုံပြည်၌ကြီး
၇ စွာသော သတ်ခြင်း ပွဲကို ၎င်း ခံတော်မူ၏။– ကြံ့
များနှင့်နွားလားဥသဘတများတို့သည်လဲကြသ
ဖြင့်၊ သူတို့နေရာမြေသည်သူတို့အသွေးနှင့်ယစ်
မူး၍၊မြေမှုန့်သည်လည်းဆီဥနှင့်ဆူဝလိမ့်မည်။–
၈ ထာဝရဘုရား ဒဏ်ပေး တော် မူ ရာနေ့၊ ဇိအုန်
မြို့၏ အမှုကိုစောင့်၍ အပြစ် ပေးတော် မူရာ နှစ်
၉ ရောက်လေပြီ။–ထိုပြည်၏မြစ်ရေသည်ထင်းရှူး
စေး၊ မြေမှုန့်ထည်းကန့်၊ တပြည်လုံးလည်း မီး
၁၀ လောင်သောအစေး ဖြစ်လိမ့်မည်။– နေ့ညဉ့်မ
ပြတ်ငြိမ်းမငြိမ်းရ၊ မီးခိုးလည်းအစဉ်တက်လိမ့်
မည်။ ထိုပြည်သည်လူမျိုးအစဉ်အဆက်ဆိတ်
ညံ၍၊ကာလအစဉ်အမြဲအဘယ်သူမျှမရှောက်
၁၁ မသွားရ။–ဝံပိုငှက်နှင့်ပြူကောင်တို့သည်ထိုပြည်
ကိုအမွေခံ၍၊ ဇီးကွက် ငှက်နှင့် ကျီးအတို့ သည်
ထည်း နေကြလိမ့်မည်။ ထိုမြေ အပေါ်မှာ လွှတ်
ထပ်ခြင်းကြိုးကြိုးကိုတန်း၍၊ လဟာမှန်ထုပ်
၁၂ ကို စီရင်တော်မူ လိမ့် မည်။– မင်း အရာ၌ ချီး
မြှောက်ရသော မူးတော်မတ်တော်မရှိရ။ မင်းမျိုး
၁၃ ပြတ်ရလိမ့်မည်။– ဘုံဗိမာန်တို့၌၎င်း၊ ခဲတိုက်
တို့၌၎င်း၊ ဆူးပင်အမျိုးမျိုး ပေါက်ကြလိမ့် မည်။
မြေခွေးနိုရာ၊ ကုလားအုတ်ငှက်နေရာဖြစ်ရလိမ့်
၁၄ မည်။– ထိုအရပ်၌ တောသားရဲတို့သည် တော
ခွေးတို့နှင့်တွေ့ကြုံကြလိမ့်မည်။ မြောက်တို့သည်
အချင်းချင်းတကောင်ကိုတကောင်မြည်ကြလိမ့်
မည်။ ထိုအရပ်၌ ထိထိတ်ငှက်ထည်ထည်းနား
၁၅ ၍မှိုသွဲ့ရာကို တွေ့လိမ့်မည်။– စွန်တတ်သောမြွေ
ထည်လည်း၊ ထိုအရပ်၌အသိုက်လုပ်၍ ဥလိမ့်
မည်။ အဥပေါက်ပြီးမှ မြွေသငယ်တို့ကို စုသိမ်း
၍ကွယ်ကာ လိမ့်မည်။ ထင်းတကွို ထည်ထည်း
ထိုအရပ်၌ စုဝေး၍၊ အထီးအမများ ပေါင်းကြ
၁၆ လိမ့်မည်။– ထာဝရဘုရား၏ကျမ်းစာကိုကြည့်
ရှု၍ဖတ်ကြလော့။ ထိုတိရိစ္ဆာန် တကောင်မျှမ
ပေါ်ဘဲမနေရ။ အမတကောင်မျှ မိမိအဖော်ကိုမ
ထိုရ။ ထာဝရ ဘုရား၏ နှုတ်တော် ထွက် အမိန့်
တော်ရှိ၏။ ဝိညာဉ်တော်သည်လည်း၊ သူတို့ကိုစု
၁၇ ဝေးစေတော်မူ၏။– သူတို့ကိုစာရေးတံပြုလျှက်၊
လက်တော်နှင့် ရှည်းကြိုးကိုတန်းလျှက်၊ သူတို့
နေရာကိုခွဲဝေတော်မူ၏။ သူတို့သည် ထိုပြည်ကို
အမြဲအမွေခံ၍၊ အမျိုးအနွယ် အစဉ်အဆက်
နေရကြလိမ့်မည်။

၃၅

၁ တောနှင့်လွင်ပြင်သည်ဝမ်းမြောက်လိမ့်မည်။
ဆိတ် ညံသော အရပ်သည် ထည်း ရွှင်လန်း၍၊
၂ နှင်း ပွင့် ကဲ့သို့ အပွင့်ပွင့် လိမ့်မည်။– အလွန်ရွှင်
လန်း၍ ဝမ်းမြောက်ခြင်း၊ သီခြင်းဆိုခြင်းနှင့်တ
ကူမြူးထူးလိမ့်မည်။လေဗနုန်တောင်၏ဘုန်းနှင့်
၎င်း၊ ကရမေလတောင်၊ ရှာရုန် အရပ်တို့၏ ထင်
တယ်ခြင်းအသရေနှင့်၎င်းပြည့်စုံလိမ့်မည်။ ထာ
ဝရဘုရား၏ဘုန်းတော်ကို၎င်း၊ငါတို့ဘုရားသခင်
၏တန်ခိုးအာနုဘော်တော်ကို၎င်း မြင်ရကြလိမ့်
မည်။
၃ အားမရှိသော လက်တို့ကို ခိုင်ခံ့စေကြလော့။
၄ တုန်တတ်သောဒူးတို့ကိုမြဲမြံစေကြလော့။–အား
ယူကြလော့၊မစိုးရိမ်ကြနှင့်ဟု၊ ကြောက်တတ်
သော သူတို့ အား ဆိုကြ လော့။ အကြောင်း မူ
ကား၊ သင်တို့ ၏ ဘုရား သခင်သည် အပြစ်ပေး
လျှက်၊ဒဏ်စီရင်လျှက်ကြွလာတော်မူလိမ့်မည်။
ဘုရား သခင်သည် ကိုယ်တော် တိုင် ကြွလာ၍၊
၅ သင်တို့ကိုကယ်တင်တော်မူလိမ့်မည်။–ထိုအခါ
မျက်စိကန်းသောသူတို့သည်မျက်စိပွင့်ထင်းကြ
လိမ့်မည်။နားပင်းသောသူတို့သည်နားပင်းခြင်း
၆ နှင့်လွတ်ကြလိမ့်မည်။– ခြေဆွံ့သောသူတို့သည်
ဒရယ်ကဲ့သို့ခုန်ကြလိမ့်မည်။ စကားအသောသူ
တို့သည် သီခြင်းဆိုကြလိမ့်မည်။ အကြောင်းမူ
ကား၊တော၌စမ်းရေထွက်၍၊ လွင်ပြင်၌မြစ်ရေ
၇ စီးလိမ့် မည်။– တံလျှပ်သည် ရေကန် ဖြစ်လိမ့်
မည်။ သွေ့ခြောက်သောမြေသည် စမ်းရေတွင်း

မြစ်ထိမ့်မည်။ မြေခွေးအိပ်ရာနေရာ၌ကျူပင်နှင့်
၈ ဂမာပင်အစား၊ မြက်ပင်ပေါက်လိမ့်မည်။- ထို
အရပ်၌လမ်းမကြီးရှိလိမ့်မည်။ ထိုလမ်းကိုသန့်
ရှင်းရာထမ်းဟုသမုတ်ကြလိမ့်မည်။ မစင်ကြယ်
သော သူသည် ထိုထမ်းကို မ ရှောက် မသွား ရ။
သွားသောသူတို့နှင့်အတူ ကိုယ်တော်တိုင်ခရီး
သွားလျက်ရှိတော် မူသည်ဖြစ်၍၊ မိုက်သောသူ
၉ သော် ထည်း လမ်း မလွဲ ရ။- ထိုလမ်း၌ ခြင်္သေ့
မရှိရ။ သားရဲတကောင်မျှ မတက်မထရ။ ရှာ
၍ မတွေ့ရ။ ရွေးနှုတ်သော သူတို့ သာလျှင် ခရီး
၁၀ သွားကြလိမ့်မည်။- ထာဝရဘုရား ကယ်လွှတ်
တော်မူသော သူတို့သည် ပြန်လာ၍၊ သီချင်းဆို
လျက်၊ ထာ ဝ ရ ဝမ်း မြောက် ခြင်း သ ရ ဖူ ကို
ဆောင်းလျက်၊ ဇိအုန်မြို့သို့ရောက်ကြလိမ့်မည်။
ဝမ်းမြောက် ရွှင်လန်း ခြင်း အခွင့်ကို ရ ကြ၍၊
ဝမ်းနည်း ခြင်းနှင့် ညည်းတွားခြင်းသည် ပြေး
သွားရလိမ့်မည်။

၃၆

၁ ဟေဇကိမင်းကြီး နန်းစံ ဆယ်လေး နှစ်တွင်၊
အာရှုရိရှင်ဘုရင် သနာခရိပ်သည်၊ ယုဒပြည်၌
ခိုင်ခံ့သော မြို့ရှိသမျှ တို့ကို စစ်ချီ၍ လုပ်ကြံ ပြီး
၂ လျှင်။- ရာဗရှာခ ကို ခန့်ထား၍ များစွာသော
ဗိုလ်ခြေနှင့်တကွ၊ လာခိရှမြို့မှ ယေရုရှလင်မြို့၊
ဟေဇကိမင်းကြီးထံသို့စေလွှတ်လေ၏။ ထိုဗိုလ်
ချုပ်မင်းသည်ရောက်၍၊ ခဝါသည်၏လယ်နား၊
မှာရှောက်သောလမ်း၊ အထက်ရေကန်မြောင်း၌
၃ ရပ်နေ၏။- ထိုအခါ ဟိလခိသားဖြစ်သောနန်း
တော်အုပ်ဧလျာကိမ်၊ စာရေးတော်ကြီးရှေဗန၊
အာသပ်သားအတွင်းဝန်ယောအာတို့သည်သူ
၄ ထံသို့ထွက်ပြီးလျှင်၊- ရာဗရှာခက၊ မဟာအရှင်
မင်းကြီး၊ အာရှုရိရှင်ဘုရင်သည် ဟေဇကိကိုမိန့်
တော်မူသည်ကား၊ သင်မှီလှုံ သဖြင့် ဝိုလ့်ရာကား
၅ အဘယ်သို့နည်း။- စစ် တိုက် လောက် အောင်
ညာဏ်သတ္တိ၊ အစွမ်း သတ္တိနှင့် ငါပြည့်စုံသည်
ဟု၊ အချည်းနှီးသောစကားကို သင်ဆိုပါသည်
တကား။ ငါကိုပုန်ကန်ခြင်းငှါ အဘယ်သူကိုကိုး
၆ စားသနည်း။- ကျိုးသော ကျူလုံးတောင်ဝေး
ထပ်ဦး၊ ဟူသောအဲဂုတ္တုပြည်ကိုကိုးစားပါသည်
တကား။ ထိုကျူလုံးသည်မှီသောသူ၏လက်ကို
ဖောက်၍ထွင်းသွားလိမ့်မည်။ ထိုသို့အဲဂုတ္တုမင်း
ကြီးဖာရောဘုရင်သည် မိမိကိုမှီသောသူအပေါင်း
၇ ထိုကိုပြုလိမ့်မည်။- သင်ကြကား၊ ငါတို့သည်ငါတို့ဘုရင်
ဘုရားသခင် ထာဝရဘုရားကို ကိုးစားသည်ဟု
ဆိုပြန်လျှင်၊ ဟေဇကိသည်မြင့်သောအရပ်ရှာ
နနှင့်ယဇ်ပလ္လင်တို့ကိုပယ်၍၊ ဤမဉ္ဇူသောယဇ်
ပလ္လင်ရှေ့၌သာကိုးကွယ်ရမည်ဟု၊ ယုဒပြည်သူ၊
ယေရုရှလင်မြို့သားတို့ကို မှာထားသဖြင့်၊ သင်
တို့ပြစ်မှားသောဘုရားဖြစ်သည်မဟုတ်လော။-
၈ သို့ဖြစ်၍၊ ယခုတွင်သခင်၊ အာရှုရိရှင်ဘုရင်၌
အာမခံတို့ကို အပ်ပါလော့။ သင်၌ မြင်းစီးသူရဲ
လုံလောက်အောင်ရှိလျှင်၊ မြင်းနှစ်ထောင်တို့ကို
၉ ငါပေးမည်။- သင်သည်သခင်၏ ကျွန်တို့တွင်
အငယ်ဆုံးသော ဗိုလ်ကို အဘယ် သို့ ဖွန် နိုင်
မည်နည်း။ အဲဂုတ္တုပြည်မှရထားများ၊ မြင်းစီး
၁၀ သူရဲများကိုရမည်ဟုယုံပါသည်တကား။- ထာ
ဝရ ဘုရား ၏ အခွင့်မရှိဘဲ၊ ဤပြည်ကို ဖျက်ဆီး
ခြင်းငှါငါလာသလော။ ထိုပြည်ကိုသွား၍ဖျက်
ဆီးလော့ဟု၊ ထာဝရ ဘုရား သည် ငါ့အားမိန့်
တော်မူပြီ။ ဤအကြောင်းအရာများကိုပြန်၍ပြော
ကြလော့ဟုပြောဆို၏။
၁၁ ထိုအခါ ဧလျာကိမ်၊ ရှေဗန၊ ယောအာတို့က၊
ရှုရိဘာသာစကားအားဖြင့် ကျွန်တော်တို့အား
အမိန့်ရှိပါလော့။ ထိုစကားကိုကျွန်တော်တို့သည်
နားလည်ပါ၏။ မြို့ရိုးပေါ်မှာရှိသော သူတို့သည်
ကြားရအောင်၊ ယုဒဘာသာစကားအားဖြင့်အ
၁၂ မိန့်မရှိပါနှင့်ဟု၊ ရာဗရှာခကိုဆိုကြလျှင်၊- ရာဗ
ရှာခက၊ သခင်သည်သင်၏သခင်နှင့် သင့်အား
သာ၊ ဤ စကားကို ပြောစေခြင်းငှါ ငါ့ကိုစေလွှတ်
တော်မူသလော။ မြို့ရိုးပေါ်မှာထိုင်လျက်၊ သင်
တို့နှင့် အတူ မိမိ တို့ မစင် ကို စား၍၊ မိမိတို့ ရေ
ပေါင်းကို သောက် ရသော သူတို့ ရှိရာ သို့ စေ
လွှတ်တော်မူသည်မဟုတ်လောဟုဆိုပြီးလျှင်၊-
၁၃ ရာဗရှာခသည်ထ၍၊ ယုဒဘာသာ စကားအား
ဖြင့် ကျယ်သောအသံနှင့် ကြွေးကြော်လျက်၊ မ
ဟာ အရှင်မင်းကြီး အာရှုရိ ရှင်ဘုရင်၏ အမိန့်
၁၄ တော်ကို နားထောင် ကြလော့။- ရှင်ဘုရင်မိန့်
တော်မူသည်ကား၊ ဟေဇကိသည် သင်တို့ကို မ
လှည့်စားစေနှင့်။ သူသည်သင်တို့ကိုကယ်ယူခြင်း
၁၅ ငှါ မ တတ် နိုင်။- ဟေဇကိ က၊ ထာဝရဘုရား
သည် ငါတို့ကိုကေန်အမှန်ကယ်ယူတော်မူမည်။
ဤ မြို့သည် အာရှုရိ ရှင်ဘုရင်လက်သို့ မရောက်
ရဟု ဆိုသဖြင့်၊ ထာဝရဘုရားကို မကိုးစား စေ
၁၆ နှင့်။- ဟေဇကိ စကားကို နားမထောင် ကြနှင့်။
၁၇ အာရှုရိ ရှင်ဘုရင်မိန့်တော်မူသည်ကား၊ ငါနှင့်

မိထားတော်ယနဲ့ခြ၊ ထော်သို့ထွက်လာကြ၊ သင်
တို့ပြည်နှင့် တူသော ပြည်တည်းဟူသော၊ ဆန်
စပါး စပျစ်ရည် နှင့် ပြည့်စုံ သော ပြည်၊ မုန့်နှင့်
စပျစ်ဥယျာဉ်များသောပြည်သို့၊ သင်တို့ကိုပို့ခြင်း
ငှါ ငါမလာမှီ တိုင်အောင်၊ သင်တို့သည် ကိုယ်
စပျစ်ပင်၏ အသီး၊ ကိုယ်သင်္ဘော သဖန်းပင်၏
အသီးကိုစား၍၊ ကိုယ်ရေကန်ကရေကိုသောက်
၁၈ လျက် နေကြ ဦးလော့။- ဟေဇကိ က၊ ထာဝရ
ဘုရားသည် ငါတို့ကို ကယ်ယူတော်မူမည်ဟု မ
ဖြားယောင်းစေနှင့်။ အပြည်ပြည်သော ဘုရား
တို့သည် မိမိတို့ ပြည်များကို အာရှုရိ ရှင်ဘုရင်
၁၉ လက်မှ ကယ်လွှတ်ကြပြီလော။- ဟာမတ်ပြည်
၏ဘုရား၊ အာပဒ်ပြည်၏ဘုရားတို့သည်အဘယ်
မှာ ရှိကြသနည်း။ သေဖရဝိမ်ပြည်၏ ဘုရား တို့
သည် အဘယ်မှာ ရှိကြသနည်း။ သူတို့သည် ရှ
မာရိ ပြည်ကို ငါ့လက်မှကယ်လွှတ်ကြပြီလော။-
၂၀ ထို အပြည်ပြည် သော ဘုရား တို့တွင်၊ အဘယ်
မည်သောဘုရားသည်မိမိပြည်ကိုငါ့လက်မှကယ်
လွှတ်ဘူးသနည်း။ ထာဝရဘုရားသည်ယေရုရှ
လင်မြို့ကို ငါ့လက်မှ အဘယ် သို့ ကယ် လွှတ် နိုင်
၂၁ မည်နည်းဟု ဆိုလေ၏။-ယုဒလူတို့သည်၊စကား
တခွန်းကိုမျှမပြန်ဘဲတိတ်ဆိတ်စွာနေကြ၏၊အ
ကြောင်းမူကား၊ ပြန်မပြောနှင့်ဟု ရှင်ဘုရင်အ
မိန့်တော်ရှိသတည်း။
၂၂ ထိုအခါဟိလခိသားဖြစ်သော၊နန်းတော်အုပ်
ဧလျာကိမ်၊ စာရေးတော်ကြီး ရှေဗန၊ အာသပ်
သား အတွင်းဝန် ယောအာ တို့ သည် မိမိတို့ အ
ဝတ်ကိုဆုတ်လျက်၊ ဟေဇကိမင်းထံသို့လာ၍၊
ရာဗရှာခစကားကိုကြားလျှောက်ကြ၏။

၃၇

၁ ထို စကား ကို ဟေဇကိ မင်း ကြီး သည် ကြား
လျှင်၊ မိမိအဝတ်ကိုဆုတ်၍ လျှော်တေအဝတ်
ကိုခြုံ လျက်၊ ဗိမာန် တော် သို့ သွား လေ၏။-
လျှော် တေ အဝတ် ကို ဝတ် လျက် ရှိသော နန်း
တော်အုပ်ဧလျာကိမ်၊ စာရေးတော်ကြီးရှေဗန၊
အသက်ကြီး သော ယဇ်ပုရောဟိတ် တို့ကို၊ အာ
မုတ် သား ပရောဖက် ယေရှာယ ထံသို့ စေ လွှတ်
၃ လေ၏။- ဟေဇကိမင်းမှာထားသောစကားဟူ
မူကား၊ ယနေ့သည်ဒုက္ခနေ့၊ ဆုံးမသောနေ့၊ ကဲ့ရဲ့
ခြင်းကိုခံရသောနေ့ဖြစ်၏။ သားဖွားမြန်ရောက်
၄ ၍ အားကိုဖွားနိုင်အောင်ခွန်အားမရှိ။-အသက်
ရှင်တော်မူသောဘုရားသခင်ကို ကဲ့ရဲ့စေခြင်းငှါ၊
အာရှုရိ ရှင်ဘုရင် စေလွှတ်သော၊ မိမိကျွန်ရာဗ
ရှာခစကားကိုသင်၏ဘုရားသခင်ထာဝရဘုရား
ကြားတော် မူ ပါစေသော၊ သင်၏ ဘုရား သခင်
ထာဝရဘုရားသည်ကိုယ်တော်တိုင်ကြားသော
စကားကိုဆုံးမတော်မူပါစေသော။သင်သည်ကျန်
ကြွင်းသော လူတို့အဖို့ ဆုတောင်းပေးပါ
၅ ပါဟု ပြောစေခြင်းငှါ၊- ဟေဇကိမင်း စေလွှတ်
သောကျွန်တို့သည် ယေရှာယထံသို့ ရောက်လာ
ကြ၏။
၆ ယေရှာယကလည်း၊ ထာဝရဘုရားမိန့်တော်
မူသည်ကား၊ အာရှုရိရှင်ဘုရင်၏ကျွန်တို့သည်ငါ့
ကို ကဲ့ရဲ့ ၍၊ သင်သည် ကြား ရ သော စကား
၇ ကြောင့်မကြောက်နှင့်။- ထိုမင်း၌ အခြားသော
စိတ်သဘောကို ငါ သွင်းပေးမည်။ သူသည် သိ
တင်းကြား၍ မိမိပြည်သို့ပြန်သွားလိမ့်မည်။ ထို
ပြည်၌ထားဖြင့် ငါဆုံးစေမည် ဟူသော စကား
တော်ကို၊ သင် တို့ ၏ သခင် အား ပြန် ကြား ကြ
လော့ဟု ပြောဆို၏။
၈ ထိုအခါ အာရှုရိ ရှင်ဘုရင်သည် လာခိရှမြို့မှ
ထွက်သွားကြောင်းကိုရာဗရှာခကြားလျှင်၊ပြန်
သွား၍လိဗနမြို့ကို ရှင်ဘုရင် တိုက်နေသည်ကို
၉ တွေ့လေ၏။- နောက်တဖန်ကုရှမင်းကြီးတိရဟ
သည်စစ်တိုက်၍လာပြီဟု၊သိတင်းကြားသောအခါ၊
ဟေဇကိ မင်း ထံသို့ တဖန်ထိုကို စေလွှတ်ပြန်
၁၀ ၍၊- သင်တို့သည်ယုဒမင်းကြီးဟေဇကိကိုပြော
ရသော စကား ဟူ မူကား၊ သင် ကိုး စား သော
ဘုရားသခင်က၊ ယေရုရှလင်မြို့သည်အာရှုရိရှင်
ဘုရင်လက်သို့ မရောက်ရဟု၍၊ သင့်ကိုလှည့်
၁၁ စားစေနှင့်။-အာရှုရိရှင်ဘုရင်တို့သည်ခပ်သိမ်း
သော ပြည် တို့ကို ထုပ်ကြ၍ ရှင်းရှင်း ဖျက်ဆီး
ကြောင်းကိုသင်သည်ကြားရပြီ။ကိုယ်တိုင်လွတ်
၁၂ လိမ့် မည်လော။- ငါ့ဘိုးဘေးတို့သည် ဖျက်ဆီး
သောအမျိုးသား၊ ဂေါဇန်အမျိုးသား၊ခါရန်အ
မျိုးသား၊ ရေဇပ်အမျိုးသား၊ တေလာသာမြို့၌ ရှိ
သော ဧဒင်အမျိုးသားတို့ကို၊သူတို့၏ ဘုရားများ
၁၃ တို့သည်ကယ်ယူကြပြီလော။-ဟာမတ်မင်းကြီး၊
အာပဒ်မင်းကြီးနှင့်၊သေဖရဝိမ်မြို့၊ ဟေနမြို့၊ ဣ
ဝါမြို့ကို စိုးစံသောမင်းကြီးတို့သည်အဘယ်မှာ
ရှိကြသနည်းဟု မှာလိုက်လေ၏။
၁၄ ထိုမှာစာကိုဟေဇကိမင်းသည်သံတမန်လက်
မှခံယူ၍ဖတ်ပြီးလျှင်၊ဗိမာန်တော်သို့သွား၍
၁၅ ထာဝရဘုရားရှေ့တော်၌ဖြန့်ထားလေ၏။- ထို

အခါဟေဇကိမင်းသည်ထာဝရဘုရား ရှေ့တော်
၁၆ ၌လျှောက်ဆိုသည်ကား၊-ခေရုဗိမ်ပေါ်မှာထိုင်
တော်မူသော၊ ဣသရေလအမျိုး၏ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား၊ကိုယ်
တော်သည် ဘုရား သခင် ဖြစ်တော် မူ၏၊ ကိုယ်
တော်တပါးတည်း သာလျှင်၊ မြေကြီးပေါ်မှာရှိ
သမျှသောအတိုင်းတိုင်းအပြည်ပြည်တို့၏ဘုရား
သခင်ဖြစ်တော် မူ၏၊ ကိုယ်တော်သည် ကောင်း
၁၇ ကင်နှင့်မြေကြီးကို ဖန်ဆင်းတော်မူ၏။- အိုထာ
ဝရ ဘုရား၊ နား တော် ကို ညွတ် ၍ နား ထောင်
တော်မူပါ၊ အိုထာဝရ ဘုရား၊ မျက်စိ တော် ကို
ဖွင့်၍ကြည့်ရှုတော်မူပါ၊ သနာခရိပ်မင်းသည်
အသက် ရှင်တော် မူသော ဘုရား သခင်ကို ကဲ့ရဲ့
၍၊ ပြောစေသောစကားအလုံးစုံတို့ကိုမှတ်တော်
၁၈ မူပါ။-အို ထာဝရဘုရား၊အာရှုရိ
ရှင်ဘုရင်တို့သည်အတိုင်းတိုင်းအပြည်ပြည်တို့
၁၉ ကိုဖျက်ဆီး၍၊-သူတို့၏ဘုရားများကိုမီးထဲသို့ချ
ဖြစ်ကြပါပြီ၊ ထိုဘုရားတို့သည်ဘုရားမဟုတ်၊
လူလက်ဖြင့် လုပ် သော သစ်သားနှင့် ကျောက်
ဖြစ်သောကြောင့်၊ ဖျက်ဆီးခြင်းသို့ရောက်ကြပါ
၂၀ ပြီ၊-အိုအကျွန်ုပ်တို့ဘုရားသခင်ထာဝရဘုရား၊
ကိုယ် တော် ထာဝရ ဘုရား တပါး သာ၊ ဘုရား
သခင်ဖြစ်တော်မူသည်ကို မြေကြီး ပေါ် မှာရှိသ
မျှသောတိုင်းနိုင်ငံတို့သည် သိမည်အကြောင်း၊
အကျွန်ုပ် တို့ ကို ထို မင်း လက်မှ ယ ကယ် ယူ
တော်မူပါ၊ အကျွန်ုပ်တောင်းပန်ပါသည်ဟုပဌ
နာပြုလေ၏။
၂၁ ထိုအခါ အာမုတ်သား ယေရှာယသည် ဟေဇ
ကိ မင်း ထံသို့ စေ လွှတ် ၍၊ ဣသရေလအမျိုး၏
ဘုရား သခင် ထာဝရ ဘုရား မိန့် တော် မူ သည်
ကား၊ သင်သည်အာရှုရိရှင်ဘုရင်သနာခရိပ်အ
ကြောင်းကြောင့်၊ ငါ့ရှေ့မှာပဌနာပြုသည်ဖြစ်၍၊-
၂၂ ထို မင်း ၏ အမှု မှာ ထာဝရ ဘုရား မိန့် တော် မူ
သော စကားဟူမူကား၊ ဇိအုန်သတို့သမီး ကညာ
သည်သင့်ကိုမထီမဲ့မြင်ပြု၍ပြက်ရယ်၏၊ယေရုရှ
လင်သတို့ သမီးသည် သင့် နောက်၌ ခေါင်း ညိတ်
၂၃ ၏။- သင်သည် အဘယ်သူကို ကဲ့ရဲ့ ဆဲရေးသ
နည်း၊အဘယ်သူကိုအော်ဟစ်၍မျက်နှာထောင်
လွှားသနည်း။ ဣသရေလအမျိုး၏သန့်ရှင်းသော
၂၄ ဘုရားကိုပင်ပြုပါသည်တကား။-သင်သည်ကျွန်
များအားဖြင့်ထာဝရဘုရားကို ကဲ့ရဲ့၍၊ ငါသည်
ရထား များပြားသဖြင့် တောင်ထိပ်သို့ငှင်၊ လေ
ဗနုန် တောင်အထွဋ်သို့ငှင် တက်လာပြီ၊ အရပ
မြင့် သော အာရဇ် ပင်နှင့် အကောင်း ဆုံး သော
ထင်းရူးပင် တို့ကို ငါ ခုတ် လှဲ၍ပြီ၊ အမြင့်ဆုံး
သောအရပ်၊ အသီးများသောတောထဲသို့ငါဝင်
၂၅ ပြီ။- ငါသည်တွင်းတူး၍ရေကိုသောက်ရပြီ၊ ငါ
၏ခြေဖဝါးအားဖြင့် အဲဂုတ္တုမြစ်ထက်ကြားရေ
ရှိသမျှ ကို ခန်း ခြောက် စေ ပြီ ဟု သင် ဆို မိ ပြီ
၂၆ တကား။- ငါသည် အထက်က ဤအမှုကိုစီရင်
ကြောင်းနှင့်၊ ရှေးကာလ၌ပြုပြင်ကြောင်းကိုသင်
သည်မကြားသလော၊ ယခုမှာလည်း သင်သည်
ခိုင်ခံ့သောမြို့တို့ကို ဖျက်ဆီး၍၊ ကျောက်ပုံဖြစ်
စေသောသူဖြစ်ပြည့်အကြောင်း၊ ငါစီရင်ခန့်ထား
၂၇ လေပြီ။-ထိုကြောင့်၊ မြို့သားတို့သည် အားနည်း
ကြ၏၊ မှိုင်တွေ၍မိတ်ပျက် လျက်ရှိကြ၏၊ တော
မြက်ပင်နှင့် စိမ်းသော စပါးပင်ကဲ့သို့ငှင်၊အိမ်မိုး
ပေါ်မှာ ပေါက် သော မြက် ပင်နှင့်၊ မကြီးမှီညှိုး
၂၈ နွမ်းသော စပါးပင်ကဲ့သို့ငှင် ဖြစ်ကြ၏။- သင်၏
နေထိုင်ခြင်း၊ ထွက်ဝင်ခြင်း၊ ငါ့၌ အမျက်ထွန်း
၂၉ ခြင်း တို့ကို ငါသိ၏။- ငါ၌ သင်၏ အမျက် ထွန်း
ခြင်း၊ စော်ကားခြင်းကိုငါကြားရသောကြောင့်၊
သင့်ကို နှာ ရှုတ် တပ်၍ ဇက်ခွံ ပြီးမှ၊ သင်လာ
သောလမ်းဖြင့်ပြန်စေမည်။
၃၀ သင်မှတ်ရသောနိမိတ်လက္ခဏာဟူမူကား၊ယ
ခုနှစ်တွင် အလိုလို ကြီးရင့်သော အသီး အနှံကို
၎င်း၊ ဒုတိယနှစ်တွင် ထိုအတူ ပေါက်သောအရာ
များကို၎င်းသင်တို့သည်စားရမည်၊ တတိယနှစ်
တွင်မျိုးစေ့ကိုကြဲ၍ စပါးကိုရိတ်ကြလော့၊ စပျစ်
ဥယျာဉ်ကိုလည်းစိုက်၍အသီးကိုစားကြလော့။-
၃၁ ယုဒအမျိုး လွတ်၍ ကျန်ကြွင်းသော သူ၊ အမျိုးသား
တို့သည် တဖန်အောက်မှာ အမြစ်စွဲ၍၊ အထက်
၃၂ မှာအသီးသီးကြလိမ့်မည်၊-ကျန်ကြွင်းသောသူ
တို့သည် ယေရုရှလင်မြို့ထဲက၎င်း၊ လွတ်
သော သူ တို့သည် ဇိအုန်တောင်ပေါ်က၎င်းပေါ်
ထွက်ကြလိမ့်မည်၊ ကောင်း ကင် ဗိုလ်ခြေ အရှင်
ထာဝရဘုရားသည်အလိုတော်အားကြီး၍၊ ထို
အမှုကိုစီရင်တော်မူလိမ့်မည်။
၃၃ သို့ဖြစ်၍၊ ထာဝရ ဘုရား သည် အာရှုရိ ရှင်
ဘုရင်ကို ရည်မှတ်၍ မိန့်တော်မူသည်ကား၊ သူ
သည်ဤမြို့သို့မဝင်ရ၊ မြို့ထဲသို့မြှားကိုပစ်ရ၊ မြို့
ရှေ့မှာဒိုင်းလွှားကိုမပြရ၊ မြို့ပြင်မှာမြေမှို့ကိုမ
၃၄ ရ။-လာသောလမ်းဖြင့်ပြန်သွားရမည်၊ဤမြို့ထဲ
သို့မဝင်ရ။-ငါသည်ကိုယ်မျက်နှာကိုငှင်၊ကျွန်

ဒါဝိဒ်၏ရှုထောင့်နာကိုငဲ့ထောက်၍၊ ဤမြို့ကိုကယ်
တင်ခြင်းငှါ စောင့်မမည်ဟု၊ ထာဝရဘုရားမိန့်
တော်မူ၏။
၃၆ ထိုအခါ ထာဝရဘုရား၏ ကောင်းကင် တမန်
ထည်ထွက်၍၊ အာရှုရိတပ်တွင် လူတသိန်းရှစ်
သောင်းငါးထောင်တို့ကိုဒါဏ်ခတ်သေ၏။နံနက်
စော စော ထမြန် ရောက် သော အခါ၊ ထို လူ အ
၃၇ ပေါင်းတို့သည်အသေကောင်ဖြစ်ကြ၏။– အာရှု
ရိရှင်ဘုရင် သနာခရိပ်သည်လည်း၊ ထိုအရပ်မှ
ထွက်၍ ပြန်သွားပြီးလျှင်၊ နိနေဝေမြို့၌ နေသေ
၃၈ ၏။– နောက်တဖန်သူသည်မိမိဘုရားနိသရုတ်၏
ဗိမာန်၌ ကိုးကွယ် စည် တွင်၊ သားတော် အာ
ဒြမ္မေလက် နှင့် ရှရေဇာသည် ဓမည်းတော် ကို
ထားနှင့် သတ်ပြီးလျှင်၊ အာရမနိ ပြည်သို့ပြေး
ကြ၏။သားတော် ဧသရ ဟဒ္ဒုန်သည်လည်း၊ ခ
မည်းတော်အရာ၌နန်းထိုင်၏။

၃၈

၁ ထိုကာလ အခါ ဟေဇကိမင်းသည် သေနာစွဲ
ထမြင့်၊ အာမုတ်သားပရောဖက်ယေရှာယသည်
လာ၍၊ ထာဝရ ဘုရား မိန့် တော် မူသည် ကား၊
ကိုယ်အိမ်အမှုကိုစီရင်လော့၊ သင်သည်အသက်
ရှင်၊ သေရမည်ဟုအမိန့်တော်ကိုပြန်လေ၏။–
၂ ဟေဇကိမင်းသည်လည်းထရံသို့မျက်နှာလှည့်
၃ ၍၊အိုထာဝရဘုရား၊ အကျွန်ုပ်သည်ရှေ့တော်၌
သစ္စာစောင့်လျက်၊ စုံလင် သောမိတ်နှစ်လုံးနှင့်
ကျင့် ၍၊ နှစ် သက် တော် မူ သည် အ တိုင်း ပြု
ကြောင်း ကို အောင်း မေ့ တော် မူ ပါ၊ အကျွန်ုပ်
တောင်းပန်ပါ၏ဟု၊ အလွန်ငိုကြွေးလျက်၊ ထာ
၄ ဝရဘုရားကို ဆုတောင်းလေ၏။– တဖန်ထာဝရ
ဘုရား၏ နှုတ်ကပတ် တော်သည် ယေရှာယသို့
၅ ရောက်၍၊– တင်သည် ဟေဇကိမင်းထံသို့သွား
ပြီးလျှင်၊ သင့်အဘ ဒါဝိဒ်၏ ဘုရားသခင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊သင်၏ပဌနာစကား
ကိုငါကြား၏။ သင်၏မျက်ရည်ကိုလည်း ငါမြင်
၏။ သင်၏အသက်၌ တဆယ်ငါးနှစ်ကို ငါဆက်
၆ ၍ပေးမည်။– သင်နှင့်ဤမြို့ကိုအာရှုရိရှင်ဘုရင်
လက်မှငါကယ်လွှတ်မည်။ဤမြို့ကိုငါကွယ်ကာ
စောင့် မ မည် အရာကို ပြောလော့ဟု မိန့် တော်မူ
၂၁ ၏။– ယေရှာယကလည်း၊ သင်္ဘောသဖန်းသီးအ
ထုံးအစေ့ကို ယူ၍ နယ်ပြီးမှ၊ အနာကို ဖုံးကြ
လော့။ ထိုသို့ပြုလျှင် မင်းကြီးသည် အသက်သာရ
လိမ့်မည်ဟု ဆိုလေ၏။

၂၂ ဟေဇကိမင်းကလည်း၊ငါ သည်ဗိမာန်တော်
သို့တက်လိမ့်မည်ဆိုသော်၊ အဘယ်လက္ခဏာ
၇ ထင်သော ရှိသနည်းဟု မေးလျှင်၊– ယေရှာယ
က၊ ထာဝရဘုရား အမိန့် တော်ရှိသည် အတိုင်း
ပြုတော်မူမည်ဟု၊ထာဝရဘုရားသည်သင့်အား
ပေး တော် မူ သော လက္ခ ဏာ ထင် သော မှု
၈ ကား၊– ကြည့်ရှုလော့၊အာခတ်၏နေ့တိုင်းနာရီ
ပေါ်မှာ ရွေ့သော အရိပ် ကို ဆယ် ချက် ပြန် စေ
မည်ဟု ဆို၏။ ဆိုသည် အတိုင်း ဆယ်ချက် ရွေ့
ပြီးသောအရိပ်သည်ဆယ်ချက်ပြန်သွာ၏။
၉ ယုဒမင်းကြီးဟေဇကိသည်အနာမှထမြောက်
၁၀ ၍ ရေးထားသော စာ ဟူမူကား၊– ငါ ထည်မြိမ်
သက်စွာ နေ စည် အခါ၊ မရဏာ နိုင်ငံ တံခါးသို့
ဝင်ရပါသည်တကား။ငါ၌ ကြွင်းသော နှစ်များ
၁၁ ကို ငါ ရှုံးပြီ ဟု ငါ ဆို သတည်း။– အသက် ရှင်
သောသူတို့၏နေရာ၌၊ထာဝရဘုရားကို ငါ မမြင်
ရ။ ပြိမ်းရာအရပ် သားတို့နှင့် ပေါင်း ဖော် ရသ
၁၂ ဖြင့်၊ နောက်တဖန်လူတို့ကိုမမြင်ရ။– ထိုးထိန်း
ထဲကဲ့သို့ငါနေသောအိမ်ကို နှုတ်ပယ်၍၊ အခြား
တပါးသို့ ဆောင်သွားပြီ။ ရက်ကန်းသည်ပြုသ
ကဲ့သို့ငအသက်သည်လိပ်လျက်ရှိ၍၊ရက်ကန်း
စင်မှငကိုပယ်ဖြတ်တော်မူလိမ့်မည်။ တနေ့ချင်း
တွင် ငကို ဆုံးစေ တော် မူ လိမ့် မည်ဟု ငါဆိုသ
၁၃ တည်း။– ငအရိုးရှိသမျှတို့ကို ရိုး တော်မူသည်
ဖြစ်၍၊ ငါသည်ခြင်္သေ့ထောက်သကဲ့သို့နံနက်
ထိုင်အောင်မြည်ရ၏။ တနေ့ချင်းတွင်ငကိုဆုံးစေ
၁၄ တော်မူလိမ့်မည်ဟုငါဆိုသတည်း။–ငါသည်တီ
တီတွတ်နှင့်ဇရက်ကဲ့သို့မြည်၍ ဖြိုးကဲ့သို့ညည်း
တွန်ရ၏။ ငမျက်စိတို့ သည် မျှော်ကြည့်၍ အား
လျော့ကြပြီ။ အိုဘုရားရှင်၊ဖွဲ့ည်းဆဲခြင်းကိုခံရ
သောအကျွန်ုပ်ထက်၌နေတော်မူပါ။
၁၅ အဘယ်သို့ငါပြောရမည်နည်း။ ငအားဂတိ
ပေးတော်မူပြီ။ ဂတိတော်အတိုင်းထဉ်ပြုတော်
မူပြီ။ ငါ၌ ကျန်ကြွင်းသော နှစ် စည် ကာလပတ်
လုံး၊ ငါသည်မိတ်ဆင်းရဲခြင်းကိုအောင်းမေ့၍၊
၁၆ ဖြည်းဖြည်းသွားပါမည်။– အိုဘုရားရှင်၊ထိုသို့
သောအား ဖြင့်အသက်ရှင်ရပါ၏။ ထိုအရာ၌သ
မျှတို့၌အကျွန်ုပ်ဝိညာဉ်၏အသက်တည်ရပါ၏။
ကိုယ်တော်သည် အကျွန်ုပ်အနာရောဂါကိုငြိမ်း
၁၇ စေ၍၊အကျွန်ုပ်အသက်ကိုရှင်စေတော်မူ၏။– အ
ကျွန်ုပ် ခံရ သော ဝေဒ နာ သည် ငြိမ်း ပါ ပြီ။ အ
ကျွန်ုပ်၏ ဝိညာဉ်ကို သနား၍၊ ဖျက်ဆီးရာ တွင်း

ထဲက နှုတ်ယူတော်မူပြီ။ အကျွန်ုပ်အပြစ်ရှိသမျှ
၁၈ ထိုကို နောက်တော်သို့ ပစ်လိုက်တော်မူပြီ။— အ
ကယ်စင်စစ် မရဏာနိုင်ငံသည် ဂုဏ်တော်ကိုမ
ချီးမွမ်းရပါ။ သေနေသောသူသည် ဂုဏ်တော်
ကို ထောမနာသီချင်းမဆိုရပါ။ တွင်းထဲသို့ဆင်း
သောသူသည် သစ္စာတော်ကို မမျှော်လင့်ရပါ။—
၁၉ အသက်ရှင်သောသူ၊ အသက်ရှင်သော သူသာ
လျှင်၊ ယနေ့ အကျွန်ုပ်ပြုသကဲ့သို့၊ ဂုဏ်တော်ကို
ချီးမွမ်းရပါလိမ့်မည်။ အဘသည် သားတို့အား
၂၀ သစ္စာတော်ကို ဖော်ပြရပါလိမ့်မည်။— ထာဝရ
ဘုရားသည် ငါ့ကိုကယ်တင်တော်မူပြီ။ ထို့ကြောင့်၊
ငါတို့သည် တသက်လုံး ဗိမာန်တော်၌ စောင်း
တီး၍ သီချင်းဆိုကြလိမ့်မည်သတည်း။

၃၉

၁ ထိုကာလအခါ ဗာလဒန်သား၊ ဗာဗုလုန်မင်း
ကြီး မေရောဒက်ဗါလဒန်သည် ဟေဇကိ မင်း နာ
၍၊ အနာပျောက် သည်ကို ကြားသောကြောင့်၊
မေတ္တာစာနှင့်လက်ဆောင် ပါလျက်၊ တမန်တို့
ကို စေလွှတ်သလေ၏။— ဟေဇကိ မင်းသည် သူတို့
ရောက်သောကြောင့် ဝမ်းမြောက်၍၊ အဖိုးထိုက်
သောရွှေ၊ ငွေ၊ နံ့သာမျိုး၊ အဘိုးထိုက်သောနံ့
သာဆီ၊ လက်နက်တိုက်နှင့်ဘဏ္ဍာတော်အလုံး
စုံတို့ကိုပြလေ၏။ နန်းတော်မှစ၍ နိုင်ငံတော်အ
ရပ်ရပ်၌ မပြသောအရာတစုံတခုမျှမရှိ။
၃ ထိုအခါ ပရောဖက်ဟေရှာယသည် ဟေဇကိ
မင်းကြီး ထံတော်သို့ သွား၍၊ ထိုသူတို့သည် အ
ဘယ်သို့ပြောကြပါသနည်း။ အဘယ်ပြည်မှ အ
ထံတော်သို့ လာကြပါသနည်းဟု မေး လျှောက်
သော်၊ ဟေဇကိမင်းက၊ ဝေးသောအရပ်၊ ဗာဗု
လုန်ပြည်မှရောက်လာကြသည်ဟုပြန်ပြော၏။—
၄ နန်းတော်၌ အဘယ်အရာကို မြင်ကြပြီနည်းဟု
မေးပြန်လျှင်၊ ဟေဇကိမင်းက၊ နန်းတော်၌ရှိသ
မျှကိုမြင်ရကြပြီ၊ ဘဏ္ဍာတော်တွင်ငါမပြသော
၅ အရာ တစုံတခုမျှ မရှိဟု ပြန်ပြော၏။— ထိုအခါ
ဟေရှာယက၊ ကောင်းကင် ဗိုလ်ခြေ အရှင်ထာ
ဝရ ဘုရား၏ နှုတ် ကပတ် တော် ကို နား ထောင်
၆ လော့။— နန်းတော်၌ ရှိသမျှ ကိုငင်၊ ယနေ့တိုင်
အောင် ဘိုးဘေးတို့သည် သိုမှီးသမျှကို ငင်၊
ဗာဗုလုန် မြို့သို့ ယူ သွား ရသော ကာလ သည်
ရောက်လိမ့်မည်၊ တစုံတခုမျှမကျန် ကြွင်းရဟု၊
၇ ထာဝရဘုရား မိန့်တော်မူ၏။— သင်နှင့် နှယ်၍ရ
သောသင်၏ သားမြေး တို့ကို ထည်း ယူသွား၍၊
ထိုသူတို့သည် ဗာဗုလုန်ရှင်ဘုရင်၏နန်းတော်၌၊ ထူ
ပို တော် လုပ်ရ ကြ လိမ့် မည် ဟု၊ ဟေဇကိ မင်း
၈ အား ပြောဆိုလေ၏။— ဟေဇကိ မင်းကလည်း၊
သင် ပြန် ရသော ထာဝရ ဘုရား ၏ နှုတ် ကပတ်
တော် ကောင်းပါ၏ ဟူ၍၎င်း၊ အကယ် စင်စစ် ငါ
လက်ထက်၌ ငြိမ်သက်ခြင်း၊ နှင့်သစ္စာစောင့်ခြင်း
ရှိရလိမ့်မည်ဟူ၍၎င်း၊ ဟေရှာယအား ဆိုလေ၏။

၄၀

၁ သင်တို့၏ဘုရားသခင် မိန့်တော်မူသည်ကား၊
ငါ၏ လူတို့ကို နှစ်သိမ့် စေကြလော့၊ နှစ်သိမ့်စေ
၂ ကြလော့။— စစ်မှုကိုထမ်းရသော အချိန် စေ့ပြီ။
သင်၏ အပြစ်လည်း ပြေရှင်းပြီဟု၊ ယေရုရှလင်
မြို့သားနှစ်သိမ့် စေ သောစကားကိုပြော၍ ကြွေး
ကြော် ကြ လော့၊ အကြောင်း မူကား၊ ထာဝရ
ဘုရား၏ လက်တော်၌ မိမိအပြစ်အတွက် နှစ်ဆခံ
ရပြီ။
၃ တော၌ ဟစ်ကြော်သော သူ၏ အသံမှာ၊ ထာ
ဝရဘုရား ကြွတော်မူရာ လမ်းကို ပြင်ကြလော့။
ငါတို့ဘုရားသခင်၏လမ်းခရီးတော်ကိုလွင်ပြင်
၄ ၌ဖြောင့်စေကြလော့။— ချိုင့်ဝှမ်းရာရှိသမျှတို့ကို
ဖို့ရမည်။ တောင်ကြီးတောင်ငယ်ရှိသမျှတို့ကိုဖြို
ရမည်။ ကောက်သော လမ်းများကို ဖြောင့်စေရ
မည်။ ကြမ်းတမ်းသောလမ်းများကိုလည်း သုတ်
၅ သင် ပြင် ဆင် ရ မည်။— ထာဝရ ဘုရား ၏ ဘုန်း
တော် ပေါ်ထွန်း၍၊ လူအပေါင်း တို့သည် အတူ
မြင်ရ ကြလတံ့ဟု၊ ထာဝရ ဘုရား၏ နှုတ် တော်
ထွက်အမိန့်တော်ရှိ၏။
၆ တမန်ထိုအသံက၊ ဟစ်ကြော်လော့ဟုဆိုလျှင်
ငါက၊ အဘယ်အရာကို ဟစ် ကြော် ရမည်နည်း
ဟုမေးသော်၊ လူမျိုးရှိသမျှသည်မြက်ပင်ဖြစ်၏။
လူမျိုး၏ဘုန်းရှိသမျှသည်လည်းတောအပွင့်ကဲ့
၇ သို့ဖြစ်၏။— ထာဝရဘုရား၏ လေတိုက်သောအ
ခါ၊ မြက်ပင်သည် ညှိုးနွမ်း၍ သွေ့ခြောက်တတ်၏။
အပွင့်လည်းကြွေတတ်၏။ အကယ်စင်စစ် လူတို့
၈ သည် မြက်ပင် ဖြစ်ကြ၏။— မြက်ပင်သည် ညှိုး
နွမ်း၊ သွေ့ ခြောက် တတ် ၏။ အပွင့် လည်း ကြွေ
တတ်၏။ ထာ ဝရ ဘုရား ၏ နှုတ် ကပတ် တရား
မူကား၊ ကာလ အစဉ် အမြဲ တည် ၏ ဟု ဆိုသ
တည်း။
၉ ဇိအုန်တောင်သို့ဝမ်းမြောက်စရာသိတင်းကို
ဆောင်ခဲ့သောသူ၊ မြင့်သောတောင်ပေါ်သို့တက်
လော့။ ယေရုရှလင် မြို့သို့ ဝမ်းမြောက် စရာ သိ

တင်းကိုဆောင်ခဲ့သောသူ၊ ကျယ်သောအသံကို
ဖွင့်လော့၊ မစိုးရိမ်ဘဲအသံကိုဖွင့်လော့၊ သင်
တို့၏ဘုရားသခင်ကိုကြည့်ရှုကြလော့၊ ယုဒမြို့ရွာ
၁၀ တို့အားပြောလော့။- ကြည့်ရှုလော့၊အရှင်ထာ
ဝရဘုရားသည်၊ကြီးသောတန်ခိုးနှင့်ကြွလာ၍၊
ထက်ရုံးတော်အားဖြင့်အစိုးရတော်မူလိမ့်မည်။
ဆုခံတော်မူထိုက်သောအခ ဆုဆု၌ ပါလျက်၊ ဆု
၁၁ လပ်တော် သည် ရှေ့တော်၌ ရှိ၏။- ဆိုးသိုးစုကို
သိုးထိန်းကဲ့သို့ ကျွေး မွေး တော် မူမည်၊ သိုးသ
ငယ်တို့ကိုရို၍ပိုက်ပွေ့တော်မူမည်၊ သားငယ်ရှိ
သောသိုးမတို့ကိုလည်းဖြည်းညှင်းစွာပို့ဆောင်
တော်မူမည်။
၁၂ ရေများကိုလက်ဆွန်းဖြင့်ခြင်သောသူ၊ မိုဃ်း
ကောင်းကင်ကို ထွာဖြင့် ထွာသောသူ၊ မြေ
မှုန့်ကို တင်း တောင်း ဖြင့် ခြင် တွက် သော သူ၊
တောင်ကြီး ကို ချိန် ခွင်ဖြင့်၎င်း၊ တောင်ငယ် ကို
ကပ်ပယ်ဖြင့်၎င်း ချိန်သော သူ ကား အဘယ်သူ
၁၃ နည်း။- ထာဝရဘုရား၏ဝိညာဉ်ကိုအဘယ်သူ
စစ်ကြောသနည်း၊ ထိုဘုရားနှင့် တိုင်ပင်၍၊ အ
၁၄ ထယ်သူသည်အကြံပေးသနည်း။- အဘယ်သူ
နှင့်တိုင်ပင်တော်မူသနည်း၊ထိုဘုရားကိုအဘယ်
သူသွန်သင်သနည်း၊ထိုဘုရားအားတရားလမ်း
ကို ပြ သော သူ၊ ပညာ နည်းကို ပေးသော သူ၊
ဉာဏ်လမ်းကို ညွှန်သောသူကား အဘယ်သူ
၁၅ နည်း။- လူအမျိုးမျိုးတို့သည် ရေပုံးမှ ကျသော
ရေစက်ကဲ့သို့ဖြစ်၍၊ ချိန်ခွင်၌ မြူမှုန့်ကဲ့သို့ ထင်
မှတ်စရာရှိ၏၊ ကျွန်းတို့သည်လည်း၊ လွင့်တတ်
၁၆ သောအမှုန့်ကဲ့သို့ဖြစ်ကြ၏။- လေဗနုန်တော
သည် မီးမွေးဘို့ မလောက်၊ ထိုတော၌ရှိသော
တိရစ္ဆာန် တို့ သည်လည်း၊ မီးရှို့ရာ ယဇ်ဘို့မ
၁၇ လောက်။- ခပ်သိမ်းသောလူအမျိုးမျိုးတို့သည်
အဘယ်မျှမဟုတ်သကဲ့သို့ရှေ့တော်၌ဖြစ်ကြ၏၊
အဘယ်မျှမဟုတ်သောအရာထက်သာ၍ငယ်
သကဲ့သို့၎င်း၊အနတ္တကဲ့သို့၎င်းမှတ်တော်မူ၏။
၁၈ သို့ဖြစ်၍၊ ဘုရားသခင်ကို အဘယ်သို့ ပုံပြရ
အံ့နည်း၊ ဘုရားသခင်နှင့်အဘယ်မည်သောပုံ
၁၉ သဏ္ဌာန်တူသည်ဟုဆိုရအံ့နည်း။-ပန်းတည်း
သမားသည် ရုပ်တုကို သွန်း ပြီးမှ၊ ပန်းတိမ်သ
မားသည်ရွှေနှင့်မွမ်းမံ၍၊ငွေကြိုးကိုလည်းလုပ်
၂၀ တတ်၏။- အဆိုးထိုက်သော အလှူကို မလှူနိုင်
သောသူသည်၊ မဆွေးမြေ့တတ်သော သစ်သား
ကိုရွေးကောက်ပြီးမှ၊ မြဲမြံသော ရုပ်တုကိုလုပ်
စေခြင်းငှါ၊ ထိမ်မှုသာသောလက်သမားကိုရှာတတ်
၂၁ ၏။- သင်တို့သည်မသိကြသလော၊ မကြားကြ
သလော၊ ရှေးဦးစွာမှစ၍သင်တို့အားမဖော်မပြ
သလော၊မြေကြီးတည်သည့်အကြောင်းကိုနား
၂၂ မလည် ကြ သလော။- မြေကြီး စက် အပေါ်မှာ
ထိုင်၍၊ မြေကြီးသားတို့ကို နှံကောင်ကဲ့သို့မှတ်
တော်မူထသော၊ မိုဃ်းကောင်းကင်ကို ဖျက်နှာ
ကြက်ကဲ့သို့ကြက်၍၊ နေစရာတဲကဲ့သို့ဖြန့်တော်
၂၃ မူထသော၊- မင်းတို့ကိုရှုတ်ချ၍၊ မြေကြီးတရား
သူကြီးတို့ကို အနတ္တကဲ့သို့ ဖြစ်စေတော် မူသော
၂၄ သူပေတည်း။- အကယ်စင်စစ်သူတို့ကိုမစိုက်မ
ပျိုးရ၊ အကယ်စင်စစ် သူတို့ ၏ မျိုးစေ့ကိုမကြဲရ၊
အကယ်စင်စစ်သူတို့အပင်သည်မြေ၌အမြစ်မစွဲ
ရ၊ သူတို့အပေါ်မှာ မှုတ်တော်မူသဖြင့်၊ သူတို့
သည်ညှိုးနွမ်းသွေ့ခြောက်၍၊ လေဘွေသည်သူ
တို့ကိုဖွဲကဲ့သို့တိုက်ဆွင့်လိမ့်မည်။
၂၅ သို့ဖြစ်၍၊ငါ့ကိုအဘယ်သို့ပုံပြရအံ့နည်း။ ငါ
သည်အဘယ်သူနှင့်တူရအံ့နည်းဟု၊ သန့်ရှင်း
၂၆ သော ဘုရား မေးတော် မူ၏။- အထက်သို့ မျှော်
ကြည့်ကြလော့၊ ထိုအရာတို့ကို အဘယ်သူဖန်
ဆင်းသနည်း၊ ထိုသူသည်သူတို့အလုံးအရင်းကို
အရေအတွက်အားဖြင့် ထုတ်ဆောင်တော် မူ၏၊
အလုံးစုံတို့ကိုနာမည်ဖြင့်ခေါ်တော်မူ၏။ခွန်အား
ကြီး၍ တန်ခိုးနှင့် ပြည့်စုံတော် မူသောကြောင့်၊
တစုံတခုမျှမပေါ်ဘဲမနေရ။
၂၇ အိုယာကုပ် အမျိုး၊ သင်သွားသော ထမ်းကို
ထာဝရဘုရား သိတော်မမူဟု၊ အထယ်ကြောင့်
ပြောသနည်း၊ အိုဣသရေလ အမျိုး၊ သင့်အမှု
ကိုသင်၏ဘုရားသခင်မှတ်တော်မမူဟု၊အဘယ်
၂၈ ကြောင့်ဆိုရသနည်း။- ထာဝရဘုရားသည် အ
စဉ် အမြဲ တည်တော် မူသော ဘုရားသခင် ဖြစ်
ကြောင်း ကို၎င်း၊ မြေကြီး စွန်း တိုင် အောင် ဖန်
ဆင်း တော် မူ သော အရှင် ဖြစ်ကြောင်း ကို၎င်း၊
မောတော်မူခြင်း၊ပင်ပန်းတော်မူခြင်းမရှိ၊ စစ်၍
မကုန်နိုင်သောဉာဏ်နှင့်ပြည့်စုံတော်မူကြောင်း
၂၉ ကို၎င်း၊သင်သည်မသိမကြားဘူးသလော။- ထို
ဘုရားသည် မောသော သူတို့အား၊ ခွန်အားကို
ပေး တော် မူ ၏၊ နွမ်းနယ်သော သူ တို့အား၊ အ
စွမ်းသတ္တိ နှင့် ပြည့်စုံသော အစွမ်းကို ပေးတော်
၃၀ မူ၏။- လူပျို တို့ သည် မော ၍ ပင် ပန်း ခြင်း သို့
ရောက်ကြလိမ့်မည်၊ လုလင်တို့သည်လည်း ဆိ
၃၁ မိ၍ လဲကြလိမ့်မည်။- ထာဝရ ဘုရားကို မျှော်



 

ထင့်စောသောသူတို့မူကား၊ အားဖြည့်ကြလိမ့်မည်။ ရွှေလင်းတကဲ့သို့ မိမိတို့ အတောင်ကို အထက် ပြု လျှင်ကြလိမ့်မည်။ ပြေး သော် ညည်း မပင် ပန်း၊ ခရီးသွားသောအခါမမောရကြ။

၄၁

၁ ကျွန်း တနိုင်ငံ အရပ်တို့၊ ငါ့ရှေ့မှာ ငြိမ်ဝပ်စွာနေကြ၊ လူအမျိုးမျိုးတို့၊ အားဖြည့်ကြ၊ ချဉ်းကပ်၍ပြောကြ၊ တရားတွေ့ကြကုန်အံ့။

၂ ဖြောင့်မတ်ခြင်း မင်္ဂလာ လိုက်တတ်သော လူကို အရှေ့ပြည်က၊ အဘယ်သူ ပေါ်လာစေသနည်း။ လူအမျိုးမျိုးတို့ကိုသူ၌အပ်၍၊ ရှင်ဘုရင်တို့ကို အုပ်စိုး စေခြင်းငှါ၊ အဘယ်သူ စီရင်သနည်း။ ရန်သူတို့ကိုသူ၏ ထားရှေ့မှာ မြေမှုန့်ကဲ့သို့၎င်း၊ သူ၏လေးရှေ့မှာ လွင့်သော ဖွဲကဲ့သို့၎င်း၊
၃ အဘယ်သူ ဖြစ်စေသနည်း။- ရန်သူတို့ကိုလိုက်ရ၏။ မိမိခြေမနင်းဘူးသောလမ်းဖြင့်၊ ဘေးမဲ့
၄ လွန်သွားရ၏။- ထိုအမှုများကို စီရင် ဖန်ဆင်းလျှက်၊ ရှေ့ဦး၊ စွာမှစ၍၊ လူမျိုးအစဉ်အဆက်တို့ကိုခေါ်သော သူ သည် အဘယ် သူ နည်း၊ ထူရှထား အဦးဆုံးသောသူဖြစ်၍၊ နောက်ဆုံးသောသူတို့နှင့်ရှိသောငါထာဝရဘုရားပေတည်း။

၅ ကျွန်းတနိုင်ငံအရပ်တို့သည်မြင်၍ကြောက်ကြ၏၊ မြေကြီးစွန်းသားတို့သည်ထိတ်လန့်သော
၆ စိတ်နှင့် ချဉ်းကပ်၍စုဝေးကြ၏။- အိမ်နီးချင်းတယောက်ကို တယောက်မစ၍၊ ညီအစ်ကိုချင်းတယောက်ကိုတယောက် မစိုးရိမ်နှင့်ဟု ဆိုကြ
၇ ၏။- ထိုသို့ ပန်းတည်းသမားသည် ပန်းတိမ်သမားကို နှိုးဆော်တတ်၏။ သံတူနှင့် ချောစေသောသူသည်၊ ပေပေါ်မှာ ရိုက်သောသူကိုလည်း နှိုးဆော်၍၊ ဂဟေကောင်းသည်ဟု ဆိုတတ်၏။ ရုပ်တုကိုမလှုပ်ရှားစေခြင်းငှါ သံဆူး နှင့် ရိုက်ထားတတ်၏။

၈ ငါ့ကျွန် ဣသရေလ၊ ငါ ရွေးချယ်သော သူ ယာ
၉ ကုပ်၊ ငါ့အဆွေ အာဗြဟံ၏သား။-မြေကြီးအစွန်းအံနားမှ ငါထုတ်ဆွဲ၍ခေါ်သောသူ၊ သင်သည် ငါ့ကျွန်ဖြစ်၏ဟူ၍၎င်း၊ သင့်ကိုငါရွေးချယ်ပြီ၊ သင့်ကို မပြစ်မပယ်ဟူ၍၎င်း၊ ဂတိကို ခံရသောသူ-
၁၀ မမိုး ရိမ် နှင့်။ ငါ သည် သင့် ထက်မှာ ရှိ၏။ မကြောက်နှင့်။ သင်၏ဘုရားသခင် ငါသည် သင့်ကို ခိုင်ခံ့စေမည်။ သင့်ကိုစောင့်မမည်။ သစ္စာ
၁၁ လက်ျာလက်ဖြင့် ထောက်ပင့်မည်။- သင်၌ အမျက် ထွက်သောသူတို့သည် ရှက်ကြောက်ခြင်းနှင့်၊ မျက်နှာပျက်ခြင်းရှိကြလိမ့်မည်။ သင်နှင့်ရန်ပြုသောသူတို့သည် အဘယ်မျှ မဟုတ်သကဲ့သို့ဖြစ်၍၊ ရှင်းရှင်းပျက်စီးခြင်းသို့ရောက်ကြလိမ့်
၁၂ မည်။- သင်နှင့်ဆန့်ကျင်ဘက်ပြုသောသူတို့ကို သင်သည်ရှာ၍မတွေ့ရ။ သင့်ကိုစစ်တိုက်သောသူတို့သည် အဘယ်မျှ မဟုတ်သကဲ့သို့၎င်း၊ အ
၁၃ နတ္တသကဲ့သို့၎င်းဖြစ်ကြလိမ့်မည်။- အကြောင်း မူကား၊ သင်၏ ဘုရား သခင် ထာဝရဘုရားက၊ မစိုးရိမ်နှင့်၊ ငါမစမည်ဟု၊ သင့်အား
၁၄ ဆိုလျှက်၊ သင်၏လက်ျာလက်ကိုကိုင်မည်။- ပိုးကောင်ယာကုပ်၊ အမျိုးငယ် ဣသရေလ၊ မစိုးရိမ်နှင့်။ ငါသည်သင့်ကိုမစသောသူဖြစ်၏၊ သင့်ကိုရွေးနှုတ်သောသူသည်၊ ဣသရေလအမျိုး၏သန့်ရှင်းသောဘုရားဖြစ်သည်ဟု၊ ထာဝရဘုရားမိန့်
၁၅ တော်မူ၏။-ငါသည်သင့်ကိုအသွားရှိသောစပါးနယ်စရာ သွားများပါ အသစ်ဖြစ်စေမည်။ သင်သည် တောင်ကြီး တို့ကို နယ်၍ ညက် စေမည်။
၁၆ တောင်ငယ်တို့ကို ဖွဲကဲ့သို့ဖြစ်စေမည်။-သူတို့ကို လှေ့၍၊ လေသည်သူတို့ကိုလိုက်သွားလိမ့်မည်။ မုန်တိုင်း သွင့်လိမ့် မည်။ သင် မူကား ထာဝရဘုရား၌ ဝမ်းမြောက်လိမ့်မည်။ ဣသရေလ အမျိုး၏သန့်ရှင်းသောဘုရား၌ ဝါကြွားလိမ့်မည်။

၁၇ ဆင်းရဲသောသူနှင့်ငတ်မွတ်သောသူတို့သည် ရေကိုရှာ၍မတွေ့၊ ရေငတ်၍ လျှာခြောက်သောအခါ၊ ငါထာဝရဘုရားသည်သူတို့စကားကိုနားထောင်မည်။ ဣသရေလအမျိုး၏ ဘုရား
၁၈ သခင် ဖြစ်သော ငါသည် သူ တို့ကို မစွန့်။- မြင့်သောအရပ်တို့၌မြစ်ကိုင်း၊ နိမ့်သောအရပ်တို့၌ စမ်းရေကိုင်း ငါပေါ်ထွက်စေမည်။ တော အရပ်၌ ရေကန် များကို၎င်း၊ သွေ့ ခြောက်သော အရပ်၌
၁၉ စမ်းရေတွင်းများကို၎င်း ငါဖြစ်စေမည်။- တော၌ အာရဇ်ပင်၊ အကာရှပင်၊ မုရတုပင်၊ ဆီသွင်ပင် များကို၎င်း၊ လွင်ပြင်၌ ထင်းရှူးပင်၊ ထဓေရပင်၊ ထာရှုရ ပင် များ ကို၎င်း ရော နှော ထူ၍ စိုက်
၂၀ မည်။- သို့ဖြစ်၍၊ ထာဝရဘုရားသည်ဤအမှုကို စီရင်၍၊ ဣသရေလ အမျိုး ၏ သန့် ရှင်း သော ဘုရား ဖန်ဆင်း တော်မူ ကြောင်း ကို၊ ထိုသူ အပေါင်းတို့သည် သိမြင်၍၊ ဆင်ခြင်နားလည်ကြလိမ့်မည်။

၂၁ သင်တို့၏ အမှုကိုဆောင်ကြလော့ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။ သင်တို့၏ခိုင်ခံ့သော သက်သေများကိုထုတ်ပြကြလော့ဟု၊ ယာကုပ်အမျိုး၏

၂၂ ၏ရှင်ဘုရင်မိန့်တော်မူ၏။- ထုတ်ဆော်၍ အနာ
ဂတ္တိအရာတို့ကို ငါတို့အား ပြကြစေ။ အရင်ဖြစ်
အံ့သော အရာတို့သည်အဘယ်သို့ဖြစ်သည်ကို
ငါတို့ဆင်ခြင်၍၊ ထိုအရာတို့၏ အဆုံးကို သိရ
မည်အကြောင်း၊ ဖော်ပြကြစေ။ သို့မဟုတ်၊ ဖြစ်
လတံ့သောအရာတို့ကိုငါတို့အားဟောပြောကြ
၂၃ စေ။-သင်တို့သည်ဘုရားဖြစ်သည်ကိုငါတို့သိရ
မည် အကြောင်း၊ ဖြစ်လတံ့သော အရာတို့ကို ပြ
ကြလော့။ အချင်းချင်းတယောက်ကိုတယောက်
ကြည့်ရှုတွေ့မြင်မည်အကြောင်း၊ ကောင်းသော
အမှု၊ ဆိုးသောအမှု တစုံတခုကို ပြုကြလော့။-
၂၄ သင် တို့ သည် အဘယ် မျှ မ ထုတ် သော အရာ
ထက်သာ၍ ယုတ်မာကြ၏။ သင်တို့အမှုသည်။
အဘယ်မျှမထုတ်သောအမှုထက် သာ၍ ယုတ်
မာ၏။ သင်တို့ကို ရွေးယူ သော သူသည် ရွံရှာ
ဘွယ်ဖြစ်၏။
၂၅ မြောက်မျက်နှာ၌ လူ တ ယောက် ကို ငါ ပေါ်
ထွန်းစေ၍၊သူသည်လာလိမ့်မည်။ နေထွက်ရာ
မှလာ၍၊ ငါ့နာမကိုပဌနာပြုလိမ့်မည်။ အိုးထိန်း
သမားသည်အိုးမြေကိုနင်းသကဲ့သို့၊ထိုသူသည်
မင်းတို့ကို အိုး မြေ အမှတ် နှင့် ကျော် နင်း လိမ့်
၂၆ မည်။- ငါတို့သည်သိရမည်အကြောင်း၊ ရှေးဦး
စွာမှစ၍ အဘယ်သူသည် ဟောပြောသနည်း။
မှန်ပေ၏ဟုငါတို့သည်ဆိုရမည်အကြောင်း၊ ရှေ့
မတွေ့က အဘယ် သူသည် ဟောပြော သနည်း။
ဖော်ပြသောသူ တယောက်မျှ မရှိ။ ဟော ပြော
သော သူ တ ယောက် မျှမရှိ။ သင်တို့ စကား ကို
၂၇ ကြားသောသူတယောက်မျှမရှိ။- ဤမည်သော
အမှုတို့သည် ဖြစ် ကြ လိမ့်မည်ဟု၊ ရှေးဦးစွာ ငါ
သည်ဇိအုန်မြို့အားပြော၏။ ဝမ်းမြောက်စရာသိ
တင်းကိုကြားပြောသောတမန်ကိုလည်း၊ ယေရု
၂၈ ရှလင်မြို့သို့ငါစေလွှတ်၏။- သူတို့ကို ငါကြည့်ရှု
သောအခါ၊ တစုံတယောက်မျှမရှိ။ သူတို့တွင်သ
တိပေးသော သူတယောက်မျှမရှိ။ ပြန်ပြောစေ
၂၉ ခြင်းငှါ သူတို့ကိုငါမေးမြန်းသော်လည်း၊- သူတို့
သည်အကြွင်းမဲ့အနတ္တဖြစ်ကြ၏။သူတို့အမှုများ
လည်း၊ အဘယ်မျှ မထုတ်။ သူတို့ သွန်းသော
ရုပ်တုတို့လည်း၊ အတ္တမရှိ၊ လေ သက်သက်ဖြစ်
ကြ၏။

၄၂

၁ ငါ ထောက် မ သော ငါ့ကျွန်ရှင်။ ငါ နှစ်သက်
မြတ်နိုးရာ ငါ ရွေးချယ် သော သူ ကို ကြည့်ရှု
လော့။ ထိုသူ၏အပေါ်၌ငါ့ဝိညာဉ်ကိုငါသွန်းလော
မည်။ သူသည် လူ အမျိုးမျိုး တို့ကို တရား စီရင်
၂ လိမ့်မည်။-အော်ဟစ်ခြင်း၊ကျွေးကြော်ခြင်းကို
မပြုမူ၍၊လမ်းခရီး၌သူ၏အသံကိုအဘယ်သူမျှ
၃ မကြားစေရ။-နင်းနယ်ကျိုးပဲ့သောကျူပင်ကို
မချိုး။ အလောက်သေးသော မီးစာကိုမသတ်။
တရားသည်မြဲမြံခြင်းသို့ရောက်မည်အကြောင်း
၄ မိရင်ထိမ်မည်။-မြေကြီးပေါ်မှာတရားတော်ကို
မတည် စေ မှီ တွင် အား မလျော့၊ မိတ်ထည်းမ
ပျက်ရ၊ သူ၏တရားကိုလည်း၊ တကျွန်းတနိုင်ငံ
သားတို့သည်မျှော်လင့်ကြလိမ့်မည်။
၅ မိုဃ်းကောင်းကင်ကိုဖန်ဆင်း၍ ကြက်တော်
မူထသော၊ မြေကြီးနှင့်မြေကြီးထဲကဖြစ်သမျှတို့
ကို ခင်းကျင်းတော်မူထသော၊မြေကြီးပေါ်မှာရှိ
သော သူတို့ အား အသက် ကို ငှင်၊ မြေ ကြီးထို
ကျော် နင်း သော သူတို့ အား ဝိညာဉ်ကိုငှင် ပေး
တော် မူ သော ဘုရား သခင် ထာဝရ ဘုရားမိန့်
၆ တော်မူသည်ကား၊-ငါထာဝရဘုရားသည်သင့်
၇ ကိုတရားသဖြင့်ခေါ်ထားသည်ဖြစ်၍၊ ထက်ဆွဲ
လျှက် ထောက် မ မည်။ သင် သည် ကန်းသော
မျက်စိတို့ကိုဖွင့်မိမ့်သောငှါလင်၊ ချုပ်ထားသော
သူတို့ကို ထုတ်မိမ့်သောငှါလင်၊ မှောင်မိုက်၌ နေ
သောသူတို့ကို အမိုက်ထောင်ထဲက နှုတ်ယူ မိမ့်
သောငှါလင်၊ သင့်ကို လူများနှင့် ပဋိညာဉ်ဖွဲ့ရာ
၈ ထို၊ လူအမျိုးမျိုးထင်းစရာအိုခန့်ထားမည်။-ငါ
သည် ထာဝရဘုရားဖြစ်၏။ ထိုနာမသည် ငါ့နာမ
ဖြစ်၏။ ဘုန်းကိုအခြားသောသူအားငှင်၊ ငါ့အ
သရေကို ရုပ်တု ဆင်းတုတို့အားငှင် ငါမပေး။-
၉ အရင် ဟောသော အရာတို့သည် ဖြစ်ကြပြီ။ အ
သစ်သောအ ရာတို့ကိုထ ငါဟော၏။မပေါ်ထွ
မှီသင်တို့အားငါပြနှင့်၏။
၁၀ ပင်လယ်ကို ကူးသောသူမှစ၍၊ ပင်လယ်၌ရှိ
သမျှတို့နှင့်တကွ၊ တကျွန်း တနိုင်ငံ အရပ်များ
ထို အရပ်၌ နေသော သူများ တို့၊ ထာဝရ ဘုရား
အား အသစ်သော သီချင်းကို ဆိုကြလော့။ မြေ
ကြီး စွန်းထိုမှ ဂုဏ်တော်ကို ချီးမွမ်း ကြလော့။-
တောနှင့်တကွ တော၌ ရှိသော မြို့ရွာ၊ ကေဒါအ
ရပ်သားတို့သည်ကျွေးကြော်ကြစေ၊ ကျောက်၌
နေသော သူတို့သည် သီချင်းဆိုကြစေ၊ တောင်
၁၂ ထိပ်ပေါ်ကကျွေးကြော်ကြစေ။- ထာဝရဘုရား
ကို ချီးမြှောက် ၍၊ တကျွန်းတနိုင်ငံ အရပ် တို့၌
ဂုဏ်တော်ကိုထင်ရှားစွာချီးမွမ်းကြစေ။

၁၃ ထာဝရဘုရားသည် သူရဲကဲ့သို့ ထွက်ကြွ၍၊
စစ်သူရဲကဲ့သို့ ကိုယ်စိတ်ကိုကိုယ်နှိုးဆော်တော်
မူလိမ့်မည်။ အော်ဟစ်ကျွေးကြော်၍ရန်သူတို့တ
၁၄ စက်၌ အားထုတ်တော်မူလိမ့်မည်။– ငါသည်
ကြာမြင့်စွာတိတ်ဆိတ်လျက်နေပြီ၊ ထိုသို့နေ၍
အောင့်ရဦးမည်လော။ သားဖွားခြင်းဝေဒနာကို
ခံရသောမိန်းမကဲ့သို့ငါအော်ဟစ်မည်။ပင့်သက်ရှူ
၁၅ ၍ချက်ချင်း ဖျက်ဆီးမည်။– တောင်ကြီးတောင်
ငယ်များကိုသွေ့ခြောက်စေမည်။ သူတို့အပင်ရှိ
သမျှတို့ကိုလည်း ညှိုးနွမ်းစေမည်။ မြစ်များကို
ကုန်းဖြစ်စေမည်။ ရေကန်များကို ခန်းခြောက်
၁၆ စေမည်။- မျက်မိကန်းသောသူတို့ကိုမိမိတို့မသိ
သောလမ်းဖြင့် ငါဆောင်မည်။ မိမိတို့ မကျွမ်း
သော ခရီး၌ သွားစေမည်။ သူတို့ ရှေ့မှာမှောင်
မိုက်ကို ထွန်းစေမည်။ ကောက်သောလမ်းကို
လည်း ဖြောင့်စေမည်။ ထိုသို့သော ကျေးဇူးကို
ပြုမည်။သူတို့ကိုမစွန့်ပြစ်။
၁၇ ရုပ်တုဆင်းတုကို မှီလို့၍၊ ကိုယ်တော်သည်
အကျွန်ုပ်တို့၏ ဘုရားဖြစ်တော်မူ၏ဟု၊ သွန်း
သော ရုပ်တုတို့အား ဆိုသောသူတို့သည် ဖွန်
ခြင်းကိုခံရ၍၊ အလွန်အရှက်ကွဲခြင်းသို့ ရောက်
၁၈ ကြလိမ့်မည်။– နားပင်းသောသူတို့၊ ကြားကြ
လော့။ မျက်မိကန်းသောသူတို့၊ သင်တို့သည်မြင်
၁၉ ရမည့်အကြောင်း ကြည့်ရှုကြလော့။– ငါ့ကျွန်မှတပါး
အဘယ်သူ ကန်းသနည်း။ ငါစေလွှတ်သောတ
မန်ကဲ့သို့ အဘယ်သူသည် နားပင်းသနည်း။ ငါ့
မိတ်ဆွေကဲ့သို့ အဘယ်သူကန်းသနည်း။ ထာဝ
ရဘုရား၏ကျွန်ကဲ့သို့အဘယ်သူကန်းသနည်း။–
၂၀ သင်သည် များစွာ မြင်သော်လည်း အာရုံ မပြု
တတ်။ နားပွင့်လျက်ရှိသော်လည်းမကြားတတ်။–
၂၁ ထာဝရဘုရားသည်မိမိဖြောင့်မတ်ခြင်းကြောင့်
အား ရ နှစ်သက် သဖြင့်၊ တရားတော် ကို ချီး
မြှောက်၍ ဂုဏ်အသရေ နှင့် ပြည့်စုံ စေတော်
မူမည်။
၂၂ ဤလူမျိုးသည်လုယူဖျက်ဆီးခြင်းကိုခံရသော
အမျိုးဖြစ်၏။ ရှိသမျှတို့သည် တွင်း၌အချုပ်ခံရ
၍၊ ထောင်ထဲမှာပုန်းကွယ်လျက်နေကြ၏။ ဖျက်
ဆီးရာဖြစ်သောအခါ၊အဘယ်သူမျှမကွတ်မယူ။
လုယူရာ ဖြစ်သော အခါ၊ ပြန်ပေးလော့ဟု အ
၂၃ ဘယ်သူမျှမဆို။– သင်တို့တွင် အဘယ်သူသည်
ဤစကားကိုနားထောင်မည်နည်း။နောင်ကာလ
၂၄ ၌အဘယ်သူကြား၍မှတ်မည်နည်း။–လုယူရာ
ဖြစ်စေခြင်းငှါ ယာကုပ်ကိုငှင်၊ ထားမြဲသူတို့လက်
သို့ ဣသရေလကိုငှင်၊ အဘယ်သူအပ်သနည်း။
ငါတို့ ပြစ်မှားသော အရှင် ထာဝရ ဘုရား အပ်
တော်မူသည်မဟုတ်လော။ လူတို့သည် နောင်တ
တော်သို့မလိုက်၊တရားတော်ကိုမကျင့်ဘဲနေကြ
၂၅ ၏။– ထို့ကြောင့်၊ ပြင်းစွာ သော အမျက် ဒေါ်
ထွက်ခြင်း၊ကြမ်းတမ်းသောစစ်တိုက်ခြင်းကိုသူ
တို့အပေါ်သို့သွန်းလောင်းတော်မူသဖြင့်၊သူတို့
ပတ်လည်၌မီးရှို့၏။ သို့သော်လည်း၊သူတို့သည်
မသိကြ။ မီးလောင်သော်လည်း၊သတိမထားဘဲ
နေကြ၏

၄၃

၁ ဆို ယာကုပ်အမျိုး၊ ဣသရေလအနွယ်၊ သင့်
ကို ဖန်ဆင်း ပြုပြင်တော်မူ သော ထာဝရဘုရား
မိန့်တော်မူသည်ကား၊ မစိုးရိမ်နှင့်။ သင့်ကို ငါ
ရွေးနုတ်ပြီ။ နာမဖြင့်မှည့်ပြီ။ သင့်ကို ငါဆိုင်
၂ ၏။– သင်သည် ရေကိုရှောက်သွားသောအခါ၊
သင်နှင့် အတူ ငါ ရှိ၏။ မြစ် တို့ကို ရှောက် သွား
သောအခါ၊မနစ်မမွန်းရ။မီးကိုလျှောက်သွားသောအ
ခါလည်းမလောင်ရ။ မီးလျှံလည်းမညှိရ။– အ
ကြောင်းမူကား၊ ငါသည် သင်၏ ဘုရား သခင်
ထာဝရဘုရားဖြစ်၏။သင့်ကိုရွေးသောသခင်၊ဣ
သရေလအမျိုး၏ သန့်ရှင်းသော ဘုရား ဖြစ်၏။
သင့်ကို ရွေးဘို့၊ အဲဂုတ္တုပြည်ကိုငှင်၊ သင့် အ
တွက်ကုရှပြည်နှင့်သေဘပြည်ကိုငှင်ငါပေး၏။–
၄ သင်သည် ငါမြတ်နိုးရာ ဖြစ်သောကြောင့် အသ
ရေ ရှိပြီ။ ငါ လည်း ချစ်၏။ ထို့ကြောင့်၊ သင့် အ
တွက်လူတို့ကိုငှင်၊သင်၏အသက်အတွက်လူမျိုး
၅ တို့ကိုငှင် ငါပေးမည်။– မစိုးရိမ်နှင့်။ ငါသည်
သင်နှင့်အတူရှိ၏။အရှေ့မျက်နှာမှသင်၏အမျိုး
အနွယ်ကိုငါဆောင်ခဲ့မည်။ အနောက်မျက်နှာ
၆ မှ သင့်ကိုစုသိမ်းမည်။– အပ်ထော့ဟု၊ မြောက်
မျက်နှာကိုငှင်၊မထိမ်းနှင့်ဟု၊ တောင်မျက်နှာကို
ငှင်ငါပြောမည်။ ဝေးသောအရပ်၊ မြေကြီးစွန်း
၇ မှ သားသမီးတည်းဟူသော၊–နာမဖြင့်သမုတ်
သောသူ၊ ငါ၏ ဘုန်း အသရေအို့ ငါဖန်ဆင်းပြု
ပြင်၍၊ ဧကန်စင်စစ်လုပ်ပြီးသောသူအပေါင်းတို့
ကိုဆောင်ခဲ့လော့ဟု ငါပြောမည်။
၈ မျက်စိ ရှိလျက်ပင် မျက်မိ ကန်း သော သူနှင့်၊
နားရှိလျက်ပင် နားပင်းသော သူတို့ကို ဆောင်ခဲ့
၉ လော့။– လူအမျိုးမျိုး အစုစုတို့သည် စုရုံးစည်း
ဝေးကြစေ။ သူတို့တွင်အဘယ်သူသည် ဤအမှု

ကိုဖော်ပြမည်နည်း၊ အရင်ဖြစ်ထတ်သော အ
ရာကို အဘယ်သူဟောပြောမည်နည်း၊ သူတို့
သည် အပြစ်တင်ခွင့်နှင့် လွတ်မည်အကြောင်း၊
သက်သေတို့ကိုပြကြစေ၊ သို့မဟုတ်၊ နားထောင်
၍ ဤသို့မှန်သည်ဟုဝန်ခံကြစေ၊
၁၀ ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်တို့
သည်၊ ငါ့ကိုသိမှတ်ယုံကြည်၍၊ ငါသည်မှန်ပြီဟု
နားလည်မည်အကြောင်း၊ ငါ၏သက်သေ၊ ငါ
ရွေးကောက်သောကျွန်ဖြစ်ကြ၏၊ ငါ့ရှေ့မှာ၊ ဖန်
ဆင်းရာထဲက အဘယ်ဘုရားသခင်မျှမဖြစ်၊ ငါ
နောက်မှာလည်း၊ အဘယ်ဘုရားသခင်မျှမရှိ
၁၁ ရာ၊- ငါတည်းဟူသော ငါသည် ထာဝရဘုရားဖြစ်၍၊ ငါမှ
၁၂ တပါး ကယ်တင်သောသခင်မရှိ၊- ငါသည်ဗျာ
ဒိတ်ထားနှင့်သည့်အတိုင်းကယ်တင်ပြီး၊ ငါဖော်
ပြနှင့်ပြီ၊ သင်တို့တွင် အခြားတပါးသော ဘုရား
သည် ဖော်ပြနှင့်သည် မဟုတ်၊ ငါသည် ဘုရား
သခင်မှန်ပြီဟု၊ သင်တို့သည် ငါ၏သက်သေဖြစ်
၁၃ ကြ၏၊- နေ့ရက်ကာလမဖြစ်မှီ ငါသည် ဘုရား
ဖြစ်၏၊ ငါ့လက်မှအဘယ်သူမျှမကယ်မနှုတ်နိုင်၊
ငါပြုသောအမှုကိုအဘယ်သူဆီးတားမည်နည်း
ဟု၊ ထာဝရဘုရားမိန့်တော်မူ၏၊
၁၄ သင်တို့ကိုရွေးနှုတ်သောသခင်၊ ဣသရေလ
အမျိုး၏သန့်ရှင်းသော ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ငါသည်သင်တို့အတွက်၊ ဗာဗုလုန်
မြို့သို့စေလွှတ်၍၊ ပြေးသောမြို့သားတို့နှင့်ခါလဒဲ
လူများကို သူတို့ပျော်မွေ့ရာ သင်္ဘောသို့ဆင်းစေ
၁၅ မည်၊- ငါသည် သင်တို့၏သန့်ရှင်းသောထာဝရ
ဘုရား၊ ဣသရေလအမျိုးကို ဖန်ဆင်းသော
ဘုရား၊ သင်တို့၏ရှင်ဘုရင်ဖြစ်၏၊
၁၆ ပြင်းထန်သော ပင်လယ်ရေ၌ လမ်းခရီးကို
၁၇ ဖန်ဆင်းတော်မူထသော၊- ရထားများ၊ မြင်းများ
နှင့်တကွ၊ စစ်သူရဲ အလုံးအရင်းတို့ကိုဆောင်ခဲ့
တော်မူထသော၊ သူတို့ကိုမထနိုင်အောင်တပြိုင်
နက်တည်းအိပ်စေ၍၊ မီးစာသေသကဲ့သို့၊ ငြိမ်း
စေတော်မူသော ထာဝရဘုရား မိန့်တော်မူသည်
၁၈ ကား၊- ဖြစ်ဘူးသောအမှုတို့ကို မအောင်းမေ့ကြ
နှင့်၊ ရှေးကာလ၏ အရာတို့ကို ပမာဏမပြုကြ
၁၉ နှင့်၊- ကြည့်ရှုလော့၊ အမှုသစ်ကိုငါပြုမည်၊ ယခု
ပေါ်ထွက်လိမ့်မည်၊ သင်တို့သည် အမှန်သိမြင်ရ
ကြလိမ့်မည်၊ အကယ်စင်စစ်တော၌လမ်းကိုရှင်၊
လွင်ပြင်၌စီးသောရေကိုရှင် ငါဖန်ဆင်းမည်၊-
၂၀ မြေခွေးနှင့် ကုလားအုတ်ငှက်မှစ၍၊ တောသား

ရဲတို့သည်ငါ၏ဂုဏ်ကျေးဇူးကို ချီးမွမ်းကြလိမ့်
မည်၊ အကြောင်းမူကား၊ ငါရွေးကောက်သော
သူ၊ ငါ၏လူတို့သောက်စရာအဖို့ တော၌ရေများကို
၂၁ ရှင်၊ လွင်ပြင်၌မြစ်တို့ကိုရှင်ငါပေးမည်၊- ကိုယ်
အဖို့ ငါဖန်ဆင်းသော ထိုလူမျိုးသည် ငါ၏ဂုဏ်
ကျေးဇူးကိုပြရလိမ့်မည်၊
၂၂ သို့သော်လည်း၊ အိုယာကုပ်အမျိုး၊ သင်သည်
ငါ့ကိုပဌနာမပြု၊ အိုဣသရေလအမျိုး၊ သင်သည်
၂၃ ငါ့ကိုငြီးငွေ့သည်တကား၊- မီးရှို့ရာသိုးသငယ်
ကိုငါ့ထံသို့မဆောင်ခဲ့၊ ယဇ်ပူဇော်ခြင်းအားဖြင့်
ငါ့ကိုမရိုသေ၊ ငါသည်သင့်ကိုအလှူဒါနနှင့်
အမှုမထမ်းစေ၊ လောဗန်ကိုတောင်း၍ သင့်ကိုမ
၂၄ ပင်ပန်းစေ၊- သင်သည်မွှေးသောကြံကိုငွေ
နှင့် မဝယ်၊ ပူဇော်သော ယဇ်ကောင်ဆီဥ နှင့်
ငါ့ကို ဝစွာမကျွေး၊ သင်သည် ဒုစရိုက်အပြစ်နှင့်
ငါ့ကိုအမှုထမ်းစေပြီတကား၊ အဓမ္မအမှုကိုပြု၍
၂၅ ငါ့ကိုပင်ပန်းစေပြီတကား၊- ငါတပါးတည်းသာ
လျှင်ကိုယ်အတွက်ကြောင့်၊ သင်၏အပြစ်ဖိုကို
ဖြေမည်၊ သင်၏ဒုစရိုက်အမှုတို့ကိုမအောင်းမေ့-
၂၆ ငါ့ကိုသတိပေးလော့၊ တရားတွေ့ကြကုန်အံ့၊ သင်
သည်အပြစ်လွတ်မည်အကြောင်းပြောလော့-
၂၇ သင်၏ပဌမအဘသည် ဒုစရိုက်ကိုပြုပြီ၊ သင်၏ဆ
၂၈ ရာတို့သည်ငါ့ကိုပြစ်မှားကြပြီ၊- ထိုကြောင့်၊ သန့်
ရှင်းရာဌာန၏ မင်းတို့ကို ငါရှုတ်ချပြီ၊ ယာကုပ်
အမျိုးသည် ကျိန်ဆဲခြင်းကိုရှင်၊ ဣသရေလအ
မျိုးသည်ကဲ့ရဲ့ခြင်းကိုရှင်ခံစေခြင်းငှါငါစွန့်ပြီ၊

၄၄

၁ ယခုမူကား၊ ငါ့ကျွန်ယာကုပ်၊ ငါရွေးကောက်
၂ သောသူဣသရေလ၊ နားထောင်လော့၊- သင့်ကို
ဖန်ဆင်းတော်မူသောဘုရား၊ အမိဝမ်းကပင်သင့်
ကိုပြုပြင်၍၊ နောင်၌လည်းမစထတ်သောထာဝ
ရဘုရားမိန့်တော်မူသည်ကား၊ ငါ့ကျွန်ယာကုပ်၊
ငါ ရွေးကောက် သော သူ ယေရှုရုန်၊ မစိုးရိမ်
၃ နှင့်၊- အကြောင်းမူကား၊ ရေငတ်သောသူအပေါ်
မှာရေကို ငါသွန်းလောင်း၍၊ သွေ့ခြောက်သော
မြေကိုရေလွှမ်းမိုးစေမည်၊ သင်၏အမျိုးအပေါ်
မှာ ငါ့ဝိညာဉ်ကို ရှင်၊ သင်၏ အနွယ်အပေါ်မှာ
ကောင်းကြီးမင်္ဂလာကို ရှင် ငါသွန်းလောင်း
၄ မည်၊- သူတို့သည် လည်း ရေမြောင်းအနားမှာ
မိုးဃီးမခပင်ကဲ့သို့၊ မြက်ပင်ထဲတွင် ပေါက်ကြ
၅ လိမ့်မည်၊- တယောက်က၊ ငါသည် ထာဝရ
ဘုရား၏လူဖြစ်သည်ဟုဆိုလိမ့်မည်၊ တယောက်

ထည့်ကည့်၊ ယာကုပ်အမည်ဖြင့်ကိုယ်ကိုကိုယ်
မှည့်လိမ့်မည်။ တပေါက်သည်လည်း၊ ထာဝရ
ဘုရား၏လူဟူ၍ မိမိလက်တွင်စာထိုးလျက်၊ ဣ
သရေလ အမည် သစ် ဖြင့် ကိုယ်ကို ကိုယ် မှည့်
လိမ့်မည်။
၆ ဣသရေလအမျိုး၏ ရှင်ဘုရင်ထာဝရဘုရား၊
ဣသရေလအမျိုးကိုရွေးနှုတ်သော၊ ကောင်းကင်
ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ငါသည် အဦး ဆုံး သောသူ၊ နောက် ဆုံး
သောသူ ဖြစ်၏။ ငါမှတပါး အခြားသော ဘုရား
၇ သခင်မရှိ။– ရှေးလူမျိုးကို ငါခန့်ထားသည်မှ စ
၍၊ ငါကဲ့သို့အဘယ်သူသည်ဤအမှုတို့ကိုငအဖို့
ခေါ်၍ ထုတ် ဖော် စီရင် နိုင် မည် နည်း။ ဖြစ်ဆဲ
သော အမှု နှင့် ဖြစ် လတံ့ သော အမှုတို့ကို သူတို့
၈ အားဖော်ပြကြစေ။– မစိုးရိမ်ကြနှင့်၊ မကြောက်
ကြနှင့်။ အထက်က ငါဟောပြော ပြသသည်မ
ဟုတ်လော။ သင်တို့သည်ငါ၏သက်သေဖြစ်ကြ
၏။ ငါမှတပါး အခြား သော ဘုရား သခင် ရှိသ
လော။ ငါမှတပါး အခြားသော မူလအမြစ်မရှိ။
တစုံတဦးကိုမျှငါမသိ။
၉ ရုပ်တု ဆင်းတုကို လုပ်သော သူ အပေါင်းတို့
သည်အချည်းနှီးသက်သက်ဖြစ်ကြ၏။ သူတို့နှစ်
မြို့ သော အရာတို့သည် အကျိုးကို မပေး နိုင်
ကြ။ ငါတို့သည်မမြင်တတ်၊ နားမလည်တတ်ဟု၊
ရှက်စရာ အကြောင်းကို ကိုယ်တိုင် သက် သေခံ
၁၀ ကြ၏။–ဘုရားကိုလုပ်သောသူ၊ အကျိုးမပေးနိုင်
သောရုပ်တု ဆင်း တုကို သွန်း သော သူကား အ
၁၁ ဘယ်သူနည်း။– ထိုသူ၏ အပေါင်းအဖေါ် ရှိသ
မျှတို့သည် ရှက်ကြ လိမ့် မည်။ လုပ်သောသူတို့
သည်လူသတ်သက်ဖြစ်ကြ၏။ ရှိသမျှတို့သည်စု
ဝေး ၍ ထကြ စေ။ တပြိုင် နက် ထိတ် လန့် ရှက်
ကြောက်ကြလိမ့်မည်။
၁၂ ပန်းပဲသမားသည် ပုဆိန်ကို လုပ်ခြင်းငှါ မီးခဲ
၌ဖုတ်၍၊ ထက်ရိုက်အားထုတ်လျက် သံတူနှင့်ထု
တတ်၏။ အကယ်၍ မွတ်သိပ် သော အခါ အား
လျော့တတ်၏။ ရေမသောက် ရသော အခါ မော
၁၃ တတ်၏။– လက်သမား သည် မျဉ်း ချလျက်ရူး
နှင့်မှတ်သား၍၊ လက်သမား တန်ဆာနှင့် လုပ်
ပြီး လျှင်၊ အိမ်၌ နေစေ ခြင်း ငှါ ကွန် ပါနှင့် ရေး
သား၍၊ လူအသရေပါအောင် လူပုံသဏ္ဌာန်နှင့်
၁၄ အညီထုလုပ်တတ်၏။– ကိုယ်အဖို့အလိုငှါ အာ
ရဇ်ပင်တို့ကိုခုတ်၍ကုပရုပင်၊ သပိတ်ပင်တို့ကို
ရွေးယူသဖြင့်၊ တောပင်အမျိုးမျိုးတို့ကို သည်း
ဖူးတတ်၏။ အာရင်ပင်ကိုစိုက်၍မိုဃ်းရေလည်း
၁၅ မွေးတတ်၏။– လူသုံးရန်ထင်းဖြစ်၏။ လူလည်း
ယူ၍မီးလှုံတတ်၏။ တဖန်မီးမွေး၍မုန့်ကိုပေါင်း
တတ်၏။ တဖန်ဘုရားကိုလုပ်၍ကိုးကွယ်တတ်
၏။ ရုပ်တုကို ထုလုပ် ၍ ရုပ်တု ရှေ့ မှာ ပြပ် ဝပ်
၁၆ တတ်၏။–ထိုသစ်သားတပိုင်းနှင့်မီးမွေးတတ်၏။
တပိုင်းနှင့်အမဲသားကိုချက်၍စားတတ်၏။ ဖုတ်
ကင်ပြီးမှဝစွာစားတတ်၏။ တဖန်မီးလှုံ၍အယ်၊
၁၇ ငါနွေး ပြီ။ မီးကို တွေ့ပြီဟု ဆို တတ် ၏။– ကျန်
သော အပိုင်း ကိုလည်း ယူ၍ ရုပ်တု တည်း ဟူ
သော ဘုရားကို လုပ် တတ်၏။ ထိုရုပ်တု ရှေ့မှာ
ပြပ်ဝပ်၍ကိုးကွယ်တတ်၏။ ကိုယ်တော်သည်အ
ကျွန်ုပ်၏ဘုရားဖြစ်တော်မူ၏။ အကျွန်ုပ်ကိုကယ်
၁၈ တင်တော်မူပါဟူ၍ ဆုတောင်းတတ်၏။– ထိုသို့
သောသူသည် ပညာမရှိ။ ဉာဏ်မရှိ။ မမြင်နိုင်
အောင်မျက်စိကိုငုင်၊ နားမလည်နိုင်အောင်စိတ်
၁၉ နှလုံး ကို ငုင် ပိတ်၏။– ငါသည်တပိုင်းနှင့် မီး
မွေးပြီ။ မုန့်ကိုလည်းထိုမီးခဲပေါ်မှာဖုတ်လေပြီ။
အမဲသားကိုလည်းကင်၍စားလေပြီ။ ကြွင်းသော
အပိုင်းကို စက် ဆုပ် ရွံ့ ရှာ ဖွယ် ဖြစ် စေ ရ မည်
လော။ သစ်သားရှေ့မှာငါပြပ်ဝပ်ရမည်လောဟု၊
စိတ်နှလုံးထဲမှာ အောင်းမေ့ဆင်ခြင် နိုင်သော
၂၀ ဉာဏ်ပညာအလျှင်းမရှိပါတကား။–သူသည်
မီးဖိုပြာကိုကျက်စားတတ်၏။ မိုက်သောစိတ်နှင့်
လမ်း လွဲပြီ။ ထိုကြောင့်၊ ကိုယ်ဝိညာဉ်ကို ကိုယ်
မချွတ် နိုင်။ မိမိ ထက်ျာ လက် ၌ မိစ္ဆာ ဒိဋ္ဌိပါသ
လောဟုမအောင်းမေ့နိုင်ပါတကား။
၂၁ အိုယာကုပ်အမျိုး၊ ဤအရာတို့ကို ဆင်ခြင်
လော့။ အိုဣသရေလအမျိုး၊ သင်သည် ငါ့ကျွန်
ဖြစ်၏။ သင့်ကိုငါဖန်ဆင်းသည်ဖြစ်၍၊ သင်သည်
ငါ့ကျွန်ဖြစ်၏။ အိုဣသရေလအမျိုး၊ သင့်ကိုငါမ
၂၂ မေ့မလျော့။– သင်၏ဒုစရိုက်တို့ကိုတိမ်တိုက်ကဲ့
သို့ငှင်၊ သင်၏အပြစ်တို့ကိုတိမ်လွှာကဲ့သို့ငှင် ငါ
ချေပြီ။ ငါ့ထံသို့ပြန်လာလော့။ သင့်ကိုငါရွေးနှုတ်
၂၃ ပြီ။– အိုမိုဃ်းကောင်းကင်တို့၊ သီခြင်း ဆိုကြ
လော့။ ထာဝရဘုရား ပြု တော် မူ ပြီ။ မြေ ကြီး
အောက်အရပ်တို့၊ ကြွေးကြော်ကြလော့။ တောင်
များ၊ တော နှင့် တကွ သစ်ပင် များ တို့၊ ကျူးဧ
သောအသံကိုပေးကြလော့။ ထာဝရဘုရားသည်
ယာကုပ် ကို ရွေး နှုတ် တော် မူ ပြီ။ ဣသရေလ
အားဖြင့်ဘုန်းထင်ရှားတော်မူပြီ။

၂၄ သင့်ကိုရွေးနှုတ်တော်မူ၍၊ ဖွားစကပင် သင့်
ကိုပြုပြင်တော်မူသောထာဝရဘုရား မိန့်တော်မူ
သည်ကား။ မိုဃ်းကောင်းကင်ကို ငါတပါး
ထည်းကြက်လျက်၊ မြေကြီးကိုအဖော်မရှိဘဲခင်း
လျက်၊ ခပ်သိမ်းသောအရာတို့ကိုဖန်ဆင်းသော
၂၅ ထာဝရဘုရားဖြစ်၏။- ငါသည်မိစ္ဆာဆရာတို့၏
ပုပ္ပနိမိတ်များကိုပယ်ဖျောက်တတ်၏၊ ဗေဒင်သ
မားတို့ကို ရူးသွပ်စေတတ်၏၊ ပညာရှိတို့ကိုဖွင့်
၂၆ ၍သူတို့၏ပညာကို မိုက်စေတတ်၏။- ငါသည်
ကျွန်၏စကားကို တည်စေ၍၊ တမန်တို့ဟော
ပြောသည်အတိုင်းပြုတတ်၏။ ယေရုရှလင်မြို့ကို
သင်သည် လူနေရာဖြစ်လိမ့်မည်ဟူ၍၎င်း၊ ယုဒ
မြို့တို့ကိုသင်တို့သည်တည်ဆောက်လျက် ရှိကြ
လိမ့်မည်။ ပြိုပျက်ရာများကို ငါပြုပြင်မည်ဟူ၍
၂၇ ၎င်းဆို၏။- ပင်လယ်ကိုလည်းရေကုန်စေ။ သင်၏
မြစ်အပေါင်းကိုငါခန်းခြောက်စေမည်ဟူ၍၎င်း၊-
၂၈ ကုရုမင်းကိုလည်း၊ သင်သည်ငါ့သိုးထိန်းဖြစ်၏၊
ငါအလိုရှိသမျှကို ပြည့်စုံစေလျက်၊ ယေရုရှလင်
မြို့တည်ဆောက်စေ၊ ဗိမာန်တော် တိုက်မြစ်ကျ
စေဟုမိန့်ရင်လိမ့်မည်ဟူ၍၎င်းငါဆို၏။

၄၅

၁ အကြင်သူ၏ရှေ့မှာ အပြည်ပြည်တို့ကို နှိမ့်ချ
၍၊ ရှင်ဘုရင်တို့ကိုတန်ဆာချွတ်လျက်၊ အတွင်း
တံခါးတို့ကိုမပိတ်ရဘဲ၊ နှစ်ရွက်ရှိသောတံခါးတို့
ကိုဖွင့်ခြင်းငှါ၊ အကြင်သူ၏လက်ျာလက်ကို ငါ
ထောက်မ၏၊ ထိုသူတည်းဟူသော ကုရုမင်း၊
ထာဝရဘုရားပေးတော်မူ၍ ဘိသိတ်ခံသော
၂ မင်းအား မိန့်တော်မူသည်ကား၊- သင့်ရှေ့မှာငါ
သွား၍၊ မြင့်သောအရပ်ကိုညီစေမည်၊ ကြေးဝါ
တံခါးတို့ကို ဖြိုး၍၊ သံကန့်လန့် တို့ကို ဖြတ်
၃ ပိုင်းဖြတ်မည်။-မှောင်မိုက်၌ရှိသောဘဏ္ဍာ၊ လုံ
ခြုံစွာ ဝှက်ထားသော ဥစ္စာ တို့ကို သင့် အား ငါ
ပေးမည်။ သို့ဖြစ်၍၊ ငါသည်သင့်ကိုနာမည်ဖြင့်
ခေါ်သောဣသရေလအမျိုး၏ဘုရားသခင်၊ ထာ
ဝရဘုရားဖြစ်တော်မူကြောင်းကို သင်သိရလိမ့်
၄ မည်။-ကျွန်ယာကုပ်၊ ငါရွေးကောက်သောသူ
ဣသရေလ အတွက်၊ ငါ သည် သင့် ကို နာမည်
ဖြင့် ခေါ်၏၊ သင် သည် ငါ့ကို မသိသော် လည်း၊
၅ သင့်၌ နာမည်သစ်ကိုထပ်၍ ပေး၏။- ငါတပါး
ထည်းသော ထာဝရဘုရားဖြစ်၏။ ငါမှတပါး အ
ခြားသော ဘုရားသခင်မရှိ။ သင်သည်ငါ့ကိုမသိ
၆ သော်လည်း၊ သင်၏ခါးကိုငါစည်း၏။-သို့ဖြင့်၊
ငါမှတပါး အခြားသောဘုရားမရှိ။ ငါတပါး
တည်းသာ ထာဝရဘုရားဖြစ်ကြောင်းကို၊ နေ
ထွက်ရာအရပ်သားနှင့် အနေဝင်ရာသားတို့သည်
၇ သိရကြလိမ့်မည်။- ငါသည်အလင်းကို
လုပ်၏၊ အမိုက်ကိုလည်းဖန်ဆင်း၏၊ ငြိမ်သက်
ခြင်းကိုဖြစ်စေ၏၊ အမင်္ဂလာကိုလည်း ဖန်ဆင်း
၏၊ ခပ်သိမ်းသော ဤမှု အရာတို့ကို ငါထာဝရ
ဘုရားပြုတော်မူ၏။
၈ မိုဃ်းကောင်းကင်တို့၊ အထက်မှယိုကြလော့။
မိုဃ်းတိမ်တို့သည်တရားမိုဃ်းရွာကြစေ။ မြေ
ကြီးသည်ပွင့်၍ကယ်တင်ခြင်းအသီးကိုသီးစေ။
ဖြောင့်မတ်ခြင်းတရားသည် တပြိုင်နက် ပေါက်
စေ။ ထိုသို့ငါထာဝရဘုရားဖန်ဆင်း၏။
၉ အကြင်သူသည်မိမိ ကို ဖန်ဆင်းသော သူ နှင့်
ဆန့်ကျင်ဘက်ပြု၏၊ ထိုသူသည်အမင်္ဂလာရှိ၏။
မြေအိုးခြမ်းတို့တွင် အိုးခြမ်းပါတကား။ အိုးမြေ
က၊ သင်သည် အဘယ်သို့သောအရာကိုလုပ်သ
နည်းဟု၊ အိုး ထိန်း သမားကို ဆိုရ မည် လော။
ငါ့ကိုလုပ်သောသူ၌ လက်မရှိဟု၊ သင်လုပ်သော
၁၀ အရာကဆိုရမည်လော။- မိမိအဖအားသင်သည်
အဘယ်သို့သောအရာကိုဖြစ်ပွားစေသနည်းဟူ
၍၎င်း၊ မိမိအမိအား သင်သည်အဘယ်သို့သော
အရာကို မွေးဖွားသနည်းဟူ၍၎င်း ဆိုသောလူ
သည် အမင်္ဂလာရှိ၏။
၁၁ ဣသရေလအမျိုး၏သန့်ရှင်းသောဘုရား၊ ထို
အမျိုးကိုဖန်ဆင်းသော ထာဝရဘုရားမိန့်တော်
မူသည်ကား၊ သင်တို့သည် ဖြစ်လတံ့သော အမှု
တို့ကို ငါ့ထံ၌ မေး မြန်း ကြ လော့။ သား တို့ အ
တွက်၊ ငါ့ကိုယ်တိုင်ပြုသောအမှုအတွက်ကြောင့်၊
၁၂ ငါ့ကိုစီရင်ကြလော့။- မြေကြီးကိုငါလုပ်လေပြီ။
မြေ ကြီး ပေါ်မှာ လူကို လည်း ဖန် ဆင်း လေ ပြီ။
မိုဃ်း ကောင်း ကင်ကို ကိုယ် လက် နှင့် ငါဖြန့်
လေပြီ။ မိုဃ်းကောင်းကင်တန်ဆာအပေါင်းတို့
၁၃ ကိုငါခန့်ထားလေပြီ။- ထိုသူကိုလည်း တရား
တော်အတိုင်း ငါပေါ်ထွန်းစေ၏။ သူသွားသော
လမ်းကို ငါဖြောင့်စေမည်။ သူသည် ငါ၏ မြို့ကို
တည် ဆောက်လိမ့်မည်။ သိမ်းသွား ချုပ်ထား
ခြင်းကိုခံရသော ငါ၏လူတို့ကိုသူသည် အဖိုးမ
ခံ၊ ဆုမယူဘဲ လွှတ်လိမ့် မည်ဟု၊ ကောင်း ကင်
ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၄ တဖန် ထာဝရ ဘုရား မိန့်တော် မူသည်ကား၊
အဲဂုတ္တုပြည်၌ ထည်လုပ်သော ဥစ္စာ၊ ကုရှပြည်

သား၊ အရပ် မြင့်သော သေဘ အမျိုးသား၊ ပြုံ့
သောကုန်ထွက် ဥစ္စာသည် သင့်ထံသို့ရောက်
၍၊ သင်၏ ဥစ္စာ ဖြစ်ရလိမ့်မည်။ ထိုသူတို့သည်
သင့် နောက်သို့ လိုက်၍၊ သံကြိုးနှင့် ချည်နှောင်
လျက်၊ထမ်းခ၍ ရှောက် သွား ကြလိမ့်မည်။ သင့်
ရှေ့မှာ ပြပ်ဝပ်၍၊ အကယ်စင်စစ် ကိုယ် တော်၌
ဘုရား သခင် ရှိတော်မူ၏။ ထိုဘုရားမှတပါး အ
ခြား သော ဘုရား၊ ထခင် မည် မျှ မ ရှိပါတကား၍
တောင်းပန်ကြလိမ့်မည်။
၁၅ အို ဣသရေလ အမျိုး၏ ဘုရားသခင်၊ ကယ်
တင်တော်မူသောဘုရား၊ အကယ်စင်စစ်ကိုယ်
တော် သည် ကိုယ်ကို ထင် ရှား စွာ ပြ တော် မမူ
၁၆ သောဘုရားသခင်ဖြစ်တော်မူ၏။ ရုပ်တုကိုလုပ်
သောသူအပေါင်းတို့သည် ရှက်ကြောက်၍ မိန်း
မောတွေဝေ ကြလိမ့်မည်။ အရှက်ကွဲ၍ တပြိုင်
၁၇ နက်ဆုတ်သွားကြလိမ့်မည်။ ဣသရေလအမျိုး
မူကား၊ ထာဝရ ဘုရား အားဖြင့် ထာဝရ ကယ်
တင်ခြင်းသို့ရောက်၍၊သင်တို့သည် ရှက်ကြောက်
ခြင်း၊မှိုင်တွေခြင်းနှင့် ကမ္ဘာအဆက်ဆက်ကင်း
လွတ်ကြလိမ့်မည်။
၁၈ မိုဃ်းကောင်းကင်ကို ဖန်ဆင်းတော်မူသော
ထာဝရဘုရား၊မြေကြီးကိုပြုပြင်ဖန်ဆင်း၍အမြဲ
တည် စေ တော် မူသော အရှင်၊ အချည်း နှီး ဖန်
ဆင်းသည်မဟုတ်၊ သတ္တဝါနေစရာအိုဖန်ဆင်း
တော်မူသောဘုရားသခင်မိန့်တော်မူသည်ကား၊
ငါသည်ထာဝရဘုရားဖြစ်၏။ငါမှတပါး၊အခြား
၁၉ သော ဘုရား မရှိ။- ငါ သည် တိတ် ဆိတ် စွာ မ
သော၊မြေကြီးထဲမှာမှောင်မိုက်သောအရပ်၌မ
သော၊ သင်တို့သည် ကျေးဇူး မရှိဘဲငါကို ရှာကြ
လော့ဟု၊ယာကုပ်အမျိုးအားငါမပြော၊ ငါသည်
ဖြောင့် ပတ် စွာ ပြော ၍ အတည့် အထင်း သော
၂၀ ထတ်သောထာဝရဘုရားဖြစ်၏။- သင်တို့သည်
စည်းဝေး၍ လာကြလော့။အတိုင်းတိုင်းအပြည်
ပြည်တို့မှ ထေးလွတ်သော သူတို့၊ စည်းဝေးကြ
လော့။မိမိထုလုပ်သောသစ်သားကိုဆောင်ရွက်
သောသူ၊ မကယ်တင်နိုင်သော ဘုရားကို ပန်ကြား
၂၁ ရှိသောသူတို့သည်ပညာမရှိကြ။- သိတင်းကြား
ပြောကြလော့၊ လူများကိုအနီးသို့ခေါ်ခဲ့၍တိုင်
ပင်ကြစေ။ ဤအမှုကိုရှေးကာလမှစ၍ အဘယ်
သူဖော်ပြသနည်း။ အထက်ကအဘယ်သူဟော
ပြောသနည်း။ငါထာဝရဘုရားဟောပြောသည်
မဟုတ်လော။ ငါမှတပါး အခြားသော ဘုရား
ထခင် မရှိ၊ ငါ သည် ဖြောင့် မတ် သော ဘုရား။
ကယ်တင်သောဘုရားဖြစ်၏။ ငါမှတပါးအခြား
၂၂ သောဘုရားမရှိ။- မြေကြီး စွန်း ထား အပေါင်း
တို့၊ ငါကိုမျှော်ကြည့်၍၊ ကယ်တင်ခြင်းကျေးဇူး
ကိုခံကြလော့၊ ငါသည်ဘုရားသခင်ဖြစ်၏။ငါမှ
၂၃ တပါးအခြားသောဘုရားမရှိ။- ငရှေ့၌ လူတိုင်း
ဒူးထောက်ရမည်။လူတိုင်းမိမိနှုတ်နှင့်သစ္စာခံရ
မည်ဟု၊ ကိုယ်ကိုကိုယ်တိုင်တည်၍ငါကျိန်ဆို
သော တရား စကား သည် ငါ့နှုတ်မှ ထွက် သည်
၂၄ ဖြစ်၍၊မပြည့်နိုင်ဘဲမနေရ။- ထာဝရဘုရားအား
ဖြင့်သာဖြောင့်မတ်ခြင်းနှင့်အစွမ်းသတ္တိကိုရပါ
သည်ဟု၊ လူတိုင်းလျှောက်ရမည်။ ကိုယ်တော်
ကိုမနှစ်သက်သောသူအပေါင်းတို့သည်အထံတော်
သို့ လာ၍၊ ရှက်ကြောက် ခြင်းသို့ ရောက်ရ ကြ
၂၅ လိမ့်မည်။- ဣသရေလအမျိုးသားအပေါင်းတို့
သည်ထာဝရဘုရားအားဖြင့်၊ဖြောင့်မတ်ရာသို့
ရောက်၍ဝါကြွားကြလိမ့်မည်။

၄၆

၁ ဗေလသည်ကျပြီ၊နေဗောသည်ကျိုးပဲ့ပြီ။သူ
တို့ ရုပ်တုတို့သည်၊ အခြေ ထေး ချောင်း ရှိ သော
သား တိရိစ္ဆာန်တို့ အပေါ်မှာ ရှိကြ၏။ သင်တို့
ထမ်း ဘူး သော ဝန်ကိုတင်၍၊ ပင်ပန်း သော တိ
၂ ရိစ္ဆာန်တို့သည်ထမ်းရကြ၏။- သူတို့သည်ကျိုး
ပဲ့လျက်၊ အတူ ထဲ ကျ လျက် နေ၍၊ မိမိ တို့ ထမ်း ရ
သောဝန်ကိုမကယ်တင်နိုင်ဘဲ၊ ကိုယ်တိုင်သိမ်း
သွားခြင်းကိုခံရကြသည်တကား။
၃ အို ယာကုပ် အမျိုးသားတို့၊ စကားကို နား
ထောင်ကြလော့။ကျန်ကြွင်းသော ဣသရေလအ
မျိုးသားအပေါင်းတို့၊ ဖွားစကပင် သင်တို့ကိုငါ
ထမ်းထေပြီ။ အမိဝမ်းထဲမှစ၍ ငါဆောင် ရွက်
၄ ထေပြီ။- သင်တို့အသက်ကြီး၍ ဆံပင် ဖြူသည်
တိုင်အောင်၊ ငါသည်ထိုသို့သောသူဖြစ်၍၊သင်
တို့ကိုဆောင်ရွက်မည်၊ ငါပြုခဲ့ပြီးသည်အတိုင်း
ထမ်းဦးမည်၊ဆောင်ရွက်၍ကယ်တင်မည်။
၅ သင်တို့သည်ငါ့ကိုအဘယ်သူနှင့် ပုံပြကြမည်
နည်း။ အဘယ်သူနှင့် တုစေ ကြမည်နည်း။ ထူ
ဆောင်အဘယ်သူနှင့်ပြိုင်းနိုင်ကြမည်နည်း။-
၆ အိုးကို ဖိတ်ထဲက ဗျားစွာ ထုတ် လျက်၊ ငွေကို
ထည်းချိန် ခွင်နှင့် ချိန်လျက်၊ ပန်းတိမ်သမားကို
ငှါး၍ ဘုရား ကိုလုပ်စေပြီးမှ၊ ပြပ်ဝပ်ကိုးကွယ်
၇ ကြသည်တကား။- ထိုဘုရားကိုပခုံးပေါ်မှာထမ်း
၍ ဆောင်သွားသဖြင့် သူနေရာ၌ထားကြ၏၊ ထူ

သည်ထည်း မတ်ထတ်နေ၏၊ သူ၏နေရာမှသူမ
ရွေ့နိုင်။ သူကိုဖော်ထစ်သော်ထည်း၊ သူသည်
မထူး။ ဒုက္ခဆင်းရဲထဲကမကယ်မနုတ်နိုင်။
၈ အိုဖောက်ပြန်သောသူတို့၊ ဤအမှုကိုအောင်း
မေ့၍ ယောကျ်ားဂုဏ်ကို ပြကြလော့။ သတိနှင့်
၉ ဆင်ခြင် ကြလော့။- ရှေးကာလ၌ ဖြစ်ဘူးသော
အမှု အရာတို့ကို အောင်းမေ့ကြလော့။ ငါသည်
ဘုရား သခင် ဖြစ်၏။ ငါမှ တပါး အခြား သော
၁၀ ဘုရားမရှိ။- အဦးမှစ၍အဆုံး တိုင်အောင်၎င်း၊
ရှေးကာလမှစ၍ မဖြစ်သေးသော အမှုအရာတို့
ကို၎င်း ဖော်ပြလျက်၊ ငါအကြံ တည် လိမ့်မည်။
ငါအလိုရှိသမျှကိုငါပြည့်စုံစေမည်ဟု ဆိုလျက်၊-
၁၁ ဝေးသော အရပ်၊ အရှေ့ မျက်နှာ မှ ငါ၏ လက်
ထောက်တည်းဟူသော ငှက်ရဲကိုခေါ်လျက်၊ငါ
သည်ဘုရားသခင်ဖြစ်၏။ ငါနှင့်တူသောသူမည်
မျှမရှိ။ ငါသည်နှုတ်ထွက် အတိုင်းပြုမည်။ ကြံ
သည်အတိုင်းစီရင်မည်။
၁၂ စိတ်ခိုင်မာ၍ ဖြောင့်မတ်ခြင်းတရားနှင့် ဝေး
၁၃ သောသူတို့၊ငါ့စကားကိုနားထောင်ကြလော့။-ငါ
၏ဖြောင့်မတ်ခြင်းတရားကိုအနီးသို့ ငါဆောင်ခဲ့
မည်။ အဝေး၌မနေရ။ ငါ၏ကယ်တင်ခြင်း ကျေး
ဇူးသည်း မဖင့်နွဲ့ရ။ ဇိအုန်တောင်ပေါ်မှာ ငါ၏
ကယ်တင်ခြင်းကျေးဇူးကို၎င်း၊ ဣသရေလအမျိုး
၌ဘုန်းကို၎င်းငါထားမည်။

၄၇

၁ အိုဗာဗုလုန်သတို့သမီးကညာ၊ ဆင်း၍မြေမှုန့်
၌ထိုင်လော့။ အိုခါလဒဲသတို့သမီး၊ ရာဇပလ္လင်မရှိ
ဘဲမြေပေါ်မှာ ထိုင်လော့။ သင့်ကိုနူးညံ့ သိမ်မွေ့
၂ သောသူဟူ၍နောက်တဖန်မခေါ်ရ။- ကြိတ်ဆုံ
ကိုယူ၍ စပါးကိုကြိတ်လော့။ မျက်နှာဖုံးကို ဖွင့်
လော့။ ရှည်သောအင်္ကျီကိုချွတ်ထော့။ ပေါင်အ
၃ ဝတ်ကို ပင့်၍ မြစ်ကို ကူးထော့။- သင်သည် အ
ဝတ် အချည်း စည်း ရှိ၍၊ အရှက် ကွဲခြင်းကို ခံရ
မည်။ငါသည်အပြစ်ဒဏ်ကိုပေးမည်။ အဘယ်
သူနှင့်မျှမိဿဟာယမဖွဲ့။
၄ ငါတို့ကိုရွေးနှုတ်သောသူကား၊ ကောင်းကင်
ဗိုလ်ခြေအရှင်ထာဝရဘုရား၊ ဣသရေလအမျိုး
၏သန့်ရှင်းသောဘုရားတည်းဟူသောဘွဲ့နာမရှိ
တော်မူ၏။
၅ အိုခါလဒဲသတို့သမီး၊ တိတ်ဆိတ်စွာထိုင်ထော့၊
မိုက်ရာသို့သွားလော့။ သင့်ကိုနိုင်ငံတို့၏အရှင်မ
၆ ဟူ၍နောက်တဖန်မခေါ်ရ။- ငါသည်ငါ၏လူတို့
ကို အမျက် ထွက် သောကြောင့်၊ ငါ၏ အမွေကို
ရှုတ်ချ၍ သင့်လက်သို့အပ်ထိုက်၏။ သင်အစဉ်အ
နားသောစိတ်မရှိ။ အသက်ကြီးသူတို့အပေါ်မှာ
၇ လေးသော ထမ်းဘိုး ကို တင် လေ ပြီ။- ထင်က
ထည်း၊ငါသည်အရှင်မ၏အရာ၌အစဉ်အမြဲနေ
မည်ဟုထင်သောကြောင့်၊ ဤအမှုအရာတို့ကို မ
ဆင်ခြင်။ သင်၌ နောက်ဆုံးဖြစ်ထတ့်သော အမှု
၈ ကိုမအောင်းမေ့။- ထိုကြောင့်၊ကာမဂုဏ်၌မွေ့လျော်
နေ၍၊ သောကကင်းလွတ်လျက်နေသောသူ၊ငါ
ရှိ၏။ ငါမှတပါးအဘယ်သူမျှမရှိ၊ငါသည်မုဆိုး
မကဲ့သို့ထိုင်၍မနေရ။သားဆုံးခြင်းကိုငါမခံရဟု
၉ အောင်း မေ့သောသူ၊ နား ထောင် ထော့။- သင်
သည်ပြုစားသောအတတ်နှင့်နတ်ဝိဇ္ဇာအတတ်
များတို့ကိုအလွန်ပြုစုသော်လည်း၊ တနေ့တခဏ
ချင်းတွင် သားဆုံးခြင်းနှင့် ထင် ဆုံးခြင်း တည်း
ဟူသောဘေးနှစ်ပါးတို့သည်သင်၌ရောက်လိမ့်
မည်။ သင်၏အပေါ်၌ အကုန်အစင်သင့်ရောက်
၁၀ လိမ့်မည်။- သင်သည်ကိုယ်ပြုသောအဓမ္မအမှု
ကိုကိုးစားပြီ။ငါ့ကိုအဘယ်သူမျှမမြင်ဟု ဆိုပြီ။
သင့်ညာဏ်နှင့်သင့်ပညာအတတ်သည်၊သင်၏
စိတ်ကိုမှောက်လှန်သည်ဖြစ်၍၊ သင်က ငါရှိ၏။
ငါမှတပါး အဘယ်သူမျှမရှိဟု အောင်းမေ့ပြီ။-
၁၁ ထိုကြောင့်၊ အဆုံးမထင်သောဘေးဥပါဒ်သည်
သင်၏အပေါ်မှာ ရောက်လိမ့်မည်။ သင်သည်မ
ဖြေနိုင်သောအပြစ်ဒဏ်နှင့်၎င်း၊ မမျှော်ထင့်နိုင်
အောင်ချက်ချင်း ဖျက်ဆီး ခြင်းနှင့်၎င်း တွေ့ကြုံရ
၁၂ လိမ့်မည်။-သင်သည် ငယ်သော အရွယ်မှ စ၍၊
ကြိုးစားအားထုတ်သော နတ်ဝိဇ္ဇာအတတ်နှင့်၊
ပြုစားသော အတတ် အမျိုးမျိုးတို့ကို အမှီ ပြု၍
တည်နေလော့။ အကျိုးကိုရကောင်းလျှင်ရလိမ့်
၁၃ မည်၊ နိုင်ကောင်းလျှင်နိုင်လိမ့်မည်။-သင်သည်
များ ပြား သောတိုင်ပင်ခြင်းအားဖြင့် ပင်ပန်းလှ
ပြီ။ မိုဃ်း ကောင်း ကင် ကို ကြည့် ရှု သော သူ၊
ကြယ်နက္ခတ်တို့ကိုမှတ်သောသူ၊သင်၌ဖြစ်ထတ့်
သောအမှုကို၊ လ၏အခြင်းအရာ အားဖြင့် ဟော
တတ်သော သူတို့သည် ထ၍ သင့်ကို ယခုကယ်
၁၄ တင်ကြစေ။- သူတို့သည်အမှိုက်ကဲ့သို့ ဖြစ်၍မီး
လောင်ခြင်းကိုခံရကြလိမ့်မည်။မီးအရှိန်မှမိမိတို့ကိုမ
ကယ်မနုတ်ရကြ။ ငွေးစရာအိုးမီးတခဲမျှ၊ ထိုင်စရာ
၁၅ ဘို့မီးအလျှင်းမျှမကျန်ရစ်ရ။-သင်နှင့်ပိုင်းညီ၍
အမှုဆောင်ရွက်သောသူ၊သင်ငယ်သောအရွယ်
မှစ၍ သင်နှင့်ဆက်ကားရောင်းဝယ်သောသူ

ထိုအည်ထင်၌ ထိုသို့ဖြစ်ကြ၍၊ ကိုယ်စီကိုယ်စီ
မိမိနေရာအရပ်သို့ဖဲ့သွားသဖြင့်၊ သင့်ကိုကယ်
တင်သောသူတစုံတယောက်မျှမရှိရ၊

၄၈

၁ အိုယာကုပ် အမျိုး၊ ဣသရေလဟူ၍ သမုတ်
ခြင်းကိုခံသောသူ၊ ယုဒစမ်းရေ တွင်းမှ ထွက်ပေါ်
သောသူ၊ ထာဝရဘုရား၏ နာမတော် အားဖြင့်
ကျိန်ဆိုသောသူ၊ သစ္စာမရှိ၊တရားနှင့် မညီဘဲ ဣ
သရေလအမျိုး၏ ဘုရားသခင်ကို မြှီးနွမ်းသော
၂ သူ၊- သန့်ရှင်းသော မြို့တော်အလိုက်၊ ကိုယ်ကို
ကိုယ် သမုတ်သောသူ၊ ကောင်းကင်ဗိုလ်ခြေ အ
ရှင်ထာဝရဘုရားတည်း ဟူသောဘွဲ့နာမရှိသော
ဣသရေလအမျိုး၏ ဘုရားသခင်ကိုမှီခိုသောသူ
၃ ထို၊နားထောင်ကြလော့၊- ဖြစ်ဘူးသောအရာတို့
ကိုအထက်ကသင်တို့အားငါဟောလေပြီ၊ထိုအ
ရာတို့သည်ငါ့နှုတ်မှထွက်၍ထင်ရှားကြပြီ၊ချက်
၄ ချင်းငါပြုသောကြောင့်ဖြစ်ကြပြီ၊-သင်သည်ခိုင်
မာသောသဘော၊သံကြောင်းလည်ပင်း၊ ကြေးဝါ
၅ နဖူးနှင့်ပြည့်စုံသည်ကိုငါသိသောကြောင့်၊- အ
ထက်ကသင့်အားငါဟောပြီ၊အမှုမဖြစ်မှီငါဖော်
ပြပြီ၊ သို့ဖြစ်၍သင်က၊ ငါ၏ရုပ်တုသည် ဤအမှု
ကိုပြုပြီ၊ ငါ့ထုသောရုပ်တု၊ငါသွန်းသောရုပ်တု
သည် ဤအမှုကိုစီရင်ပြီဟု ပြောရသောအခွင့်မ
၆ ရှိ၊- သင်သည်အရင်ကြားရပြီ၊ဤအမှုအလုံးစုံ
တို့ကိုကြည့်ရှုလော့၊ သူတပါး၊တို့အားမကြားမ
ပြောဘဲနေမည်လော၊ယခုမှစ၍အသစ်သောအ
ရာ၊ဝှက်ထားသောအရာ၊သင်မသိသေးသောအ
၇ ရာတို့ကိုငါဖော်ပြ၏၊- ထိုအရာတို့ကိုယခုဖန်
ဆင်း၏၊ အထက်က ဖန်ဆင်းသည်မဟုတ်၊ ယ
နေ့ထိုင်အောင်သင်ထည့်မကြားဘူး၊ သို့ဖြစ်၍
သင်က၊ ငါသိနှင့်ပြီဟုပြောရသောအခွင့်မရှိ၊-
၈ အကယ်စင်စစ်သင်သည်မကြားမသိဘူး၊ သင်၏
နားသည် အထက်ကမပွင့်၊ အကြောင်းမူကား၊
သင်သည်သစ္စာဖောက်လိမ့်မည်၊ ဖွားစကပင်သင့်
ကိုဒုစရိုက်ပြု၍ သမုတ် ရလိမ့် မည်ကို ငါသိ၏၊-
၉ ထိုသော် ထည်း၊ သင့်ကိုရှင်းရှင်းမပယ်မဖြတ်
ခြင်းငှါ၊ ငါ သည် ကိုယ် နာမ အတွက် ကိုယ် အ
မျက်ကို ချုပ်တည်းမည်၊ ကိုယ်ဂုဏ် အသရေ
၁၀ အတွက်သင်၏အမှု၌ငါသည်သည်းခံမည်၊- ငါသည်
သင့်ကိုစစ်ခဲ့ပြီ၊သို့သော်ထည်း၊ ငွေကိုစစ်သကဲ့
၁၁ သို့မဟုတ်၊ဒုက္ခမီးဖို၌သင့်ကိုစုံစမ်းခဲ့ပြီ၊-ကိုယ်
အတွက်ငါပြုဦးမည်၊နာမသည်ရှုတ်ချခြင်းကို

အထယ်ကြောင့်ခံရမည်နည်း၊ ငါ့ဂုဏ်အသရေ
ကိုသူတပါး၊အား ငါမပေး၊
၁၂ အိုယာကုပ်၊ငါခေါ်သောဣသရေလ၊ငါ့စကား
ကိုနားထောင်လော့၊ ငါသည်ဘုရားဖြစ်၏၊ ငါ
သည်အဦးဆုံးသောသူ၊ နောက်ဆုံးသောသူဖြစ်
၁၃ ၏၊-အကယ်စင်စစ်ငါ့လက်သည်မြေကြီးကိုတည်
လေပြီ၊ ငါ့လက်ျာလက် သည် မိုဃ်းကောင်းကင်
ကိုဖြန့်လေပြီ၊ ငါခေါ်၍ သူတို့သည် စုဝေး၍ချင်း
ပေါ်လာကြ၏၊
၁၄ ရှိသမျှသောသင်တို့၊ စည်းဝေး၍ နားထောင်
ကြလော့၊ဤအမှုအရာတို့ကိုသင်တို့တွင်အဘယ်
သူသည် ဖွေမဆွက ဟောနှင့်သနည်း၊ ထာဝရ
ဘုရား ချစ် တော်မူသော သူသည် ဗာဗုလုန် မြို့၌
အလိုတော်ကို ပြည့်စုံစေမည်၊ သူ၏လက်သည်
ခါလဒဲလူတို့အပေါ်သို့ရောက်လိမ့်မည်၊-
၁၅ ငါကိုယ်တိုင်အမိန့်တော်ရှိပြီ၊ အကယ်စင်စစ်သူ
ကိုငါခေါ်ပြီ၊ငါဆောင်ခဲ့ပြီ၊သူသွားသောလမ်း
၁၆ ၌မင်္ဂလာရှိရလိမ့်မည်၊- ငါ့ထံသို့ချဉ်းကပ်၍ ဤ
စကားကို နားထောင်ကြလော့၊ ရှေ့ဦးစွာမှစ၍
တိတ်ဆိတ်စွာမဟော၊ အမှုဖြစ်စကာလ၌ ငါရှိ
၏၊ ယခု တွင် အရှင် ထာဝရ ဘုရား နှင့် ဝိညာဉ်
တော်သည်ငါ့ကိုစေလွှတ်တော်မူ၏၊
၁၇ သင့်ကို ရွေးနှုတ်သောသူ၊ ဣသရေလအမျိုး
၏ သန့်ရှင်းသောအရှင် ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ငါသည် သင်၏ အကျိုး နှင့် ရှည်
သောအရာကို သွန်သင်၍၊ ထင်သွား အပ်သော
လမ်းဖြင့်ပို့ဆောင်သောသင်၏ဘုရားသခင်ထာ
၁၈ ဝရဘုရားဖြစ်၏၊- သင်သည် ငါ၏ပညတ်တို့ကို
စောင့်ရှောက်ပါစေသော၊သို့ပြုလျှင်၊သင်၏ချမ်း
သာသည် မြစ်ကဲ့သို့၎င်း၊ သင်၏ ဖြောင့်မတ်ခြင်း
ပါရမီသည် သမုဒ္ဒရာလှိုင်းတံပိုးကဲ့သို့၎င်းဖြစ်ရ
၁၉ လိမ့်မည်၊- သင်၏ အမျိုး အနွယ်သည် သဲလုံး
ကဲ့သို့၎င်း၊ သင်၏ သား မြေး တို့သည် သမုဒ္ဒရာ
ကျောက်စရစ်ကဲ့သို့၎င်းဖြစ်ရကြလိမ့်မည်၊ သင်
၏နာမသည်ငါ့ရှေ့မှာမပြတ်၊မပျက်မစီးရ၊
၂၀ ဗာဗုလုန်မြို့ထဲက ထွက်ကြလော့၊ ခါလဒဲ
လူတို့ရှေ့မှ ပြေးကြ — ရွှင်လန်း
စွာသီခြင်း၊ သံ နှင့် ခါလဒဲ လူတို့ နေရာမှ ပြေးကြ
လော့၊ ဤသိတင်း စကား ကို မြေ ကြီး စွန်း တိုင်
အောင် ပြန့်ပြော မြွက် ဆို၍ အသံကို လွှင့် ကြ
လော့၊ ထာဝရဘုရားသည်မိမိကျွန်ယာကုပ်ကို
၂၁ ရွေးနှုတ်တော်မူပြီဟုပြောဆိုကြလော့၊- သူတို့
သည် တောလမ်းဖြင့် ဆောင်သွားတော် မူခြင်း

ကိုခံသောအခါရေမငတ်ကြ။ သူတို့အဖို့ကျောက်
ထဲကရေကို စီးစေတော်မူ၏၊ ကျောက်ခဲကိုပင်ခွဲ
၂၂ တော်မူသဖြင့်၊ ရေသည် စီး ထွက် လေ၏။- မ
တရား သောသူတို့၌ ငြိမ်းသာ မရှိ ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။

၄၉

၁ အချင်း ကျွန်း တနိုင်ငံအရပ်တို့၊ ငါ့စကားကို ကြား
ကြ လော့၊ ဝေးသွာ သော လူမျိုး တို့၊ နားထောင်ကြလော့၊ ငါဖွားစကပင်ထာဝရဘုရား
သည်ငါ့ကိုခေါ်တော်မူ၏။ အမိဝမ်းထဲမှစ၍ငါ၏
၂ နာမကို မှတ်တော် မူ၏။- ငါ့နှုတ်ကို ထက်သော
ထားကဲ့သို့ဖြစ်စေ၍၊ လက်တော်အရိပ်၌ဖုံးထား
တော်မူ၏၊ ငါ့ကိုထည်း ဦးသစ်သော စည်းသွား
ဖြစ်စေ၍၊ မိမိမြားတောင့်ထဲမှာဝှက်ထားတော်မူ
၃ ၏။- အို ဣသရေလ၊ သင်သည်ငါ၏ ကျွန်ဖြစ်၏၊
သင့်အားဖြင့်ငါဘုန်းသည်ထင်ရှားလိမ့်မည်ဟု၊
၄ ငါ့အားမိန့်တော်မူပြီ။- ငါကလည်း၊ အကျိုးမရှိ
ဘဲ ငါ လုပ်ဆောင် ရပြီ၊ အချည်း နှီး သက်သက်
ငါ့ခွန်အားကုန်ရပြီ။ သို့သော်လည်း၊ ငါ့အမှုသည်
ထာဝရဘုရား ရှေ့တော်၌ရှိ၏၊ ငါခံရသောအခ
ထည်း ငါ၏ဘုရားသခင်ထက်တော်၌ရှိသည်ဟု
၅ ဆို၏။- ငါသည်ထာဝရဘုရားရှေ့တော်၌အသ
ရေထင်ရှား၍၊ ငါ၏ဘုရားသခင်သည်ငါ့ကိုခိုင်ခံ့
စေတော်မူသည် အကြောင်း နှင့်တကွ၊ ဣသရေ
လအမျိုးသည်အထံတော်၌ စုဝေးစေခြင်းကိုမခံ
သော်လည်း၊ ငါသည် ယာကုပ် အမျိုးကို အထံ
တော်သို့တပန်ဆောင်ခဲ့ရသော ကျွန်ဖြစ်စေမည်
အကြောင်း၊ ငါ့ကို အမိ ဝမ်း ထဲ မှ စ၍ ဖန် ဆင်း
တော် မူသော ထာဝရ ဘုရား မိန့် တော် မူသည်
၆ ကား။- သင်သည် ယာကုပ်၏အမျိုး အနွယ်တို့
ကို ချီးမြှောက်ခြင်း၊ ဆေးလွတ်သော ဣသရေလ
သားတို့ကိုအရင်ကဲ့သို့ ဖြစ်စေခြင်းအလို့ငှါသာ၊
ငါ့အမှုကို ဆောင်ရွက်သော အမှုသည် သာမည
အမှုဖြစ်၏၊ ထိုအမှုမက၊ သင်သည်မြေကြီး စွန်း
တိုင်အောင် ငါ၏ ကယ်တင်ခြင်းကို ပြုမိမ့်သော
ငှါ၊ သင့်ကိုတပါးအမျိုးသားတို့ထင်းစရာ တိုင်ငါ
ခန့်ထားသည်ဟုမိန့်တော်မူ၏။
၇ ဣသရေလ အမျိုးကို ရွေးနှုတ်တော်မူ၍၊ ထို
အမျိုး၏ သန့်ရှင်းသော ထာဝရဘုရား သည်၊
အအယ်သူမှုမနှစ်သက်၊ တပြည်လုံး ရွံရှာဖွယ်
ဖြစ်၍၊ မင်းထံ၌ကျွန်ခံရသောသူ အားမိန့်တော်
မူသည်ကား၊ သစ္စာရှိတော်မူသောထာဝရဘုရား၊
သင့်ကို ရွေးကောက် တော် မူသော၊ ဣသရေလ
အမျိုး၏ သန့်ရှင်းသော ဘုရား၏ ကျေးဇူးတော်
ကြောင့်၊ ရှင်ဘုရင်တို့သည်မြင်၍ထကြလိမ့်မည်၊
မင်းသားတို့သည်လည်းကိုးကွယ်ကြလိမ့်မည်။-
၈ ထာဝရဘုရား မိန့်တော်မူသည်ကား၊ နှစ်သက်
ဖွယ် သော အ ချိန် ၌သင် ၏ စကား ကို ငါ နား
ထောင်ပြီ၊ ကယ်တင်ရာကာလ၌ သင့်ကိုမစပြီ၊
သင့် ကို လည်း ငါ စောင့် ရှောက် ၍၊ သင်သည်
ပြည်တော်ကို ပြုပြင်လျက်၊ ဆိတ်ညံသောအမွေ
ခံရာအရပ်တို့ကိုအမွေပေးစေမည်အကြောင်း။-
၉ ထွက်ကြလော့ဟု၊ ချုပ်ထား သော သူတို့ အား
၎င်း၊ ပေါ်ထွက်ကြ လော့ဟု၊ မှောင်မိုက်ထဲမှာ နေ
သောသူတို့အား၎င်းပြောစေမည်အကြောင်း၊ လူ
မျိုးအား ပဋိ ညာဉ် တရားကို ပြုစရာဖို့ သင့်ကို
ခန့်ထားမည်။ သို့ဖြစ်၍၊ ထိုသူတို့သည်ထမ်းခရီး
ထို့ အနားမှာ စားရ၍၊ မြင့်သော အရပ်ရပ်တို့၌
၁၀ ကျက်စားရာကိုတွေ့ရကြလိမ့်မည်။-သူတို့သည်
ရေစာကိုမငတ်မရွတ်ရ၊ အပူကိုထည်းမခံရကြ၊
နေရောင်ခြည်မထိရ၊ အကြောင်းမူကား၊ သူတို့
ကိုသနားသော သူသည် သူတို့ကို ပို့ ဆောင်၍၊
၁၁ စမ်းရေတွင်းအနားသို့ထမ်းပြလိမ့်မည်။- ငါ၏
တောင်ရှိသမျှတို့ကို သွားရာထမ်း ဖြစ်စေမည်၊
၁၂ ငါ၏မြေတန်တားများကိုလည်းငါမြှင့်မည်။-ကြည့်
ရှုလော့၊ ဤသူတို့သည်ဝေးသောအရပ်မှလာကြ
လိမ့်မည်၊ ကြည့်ရှုလော့၊ ထိုသူတို့သည်မြောက်
မျက် နှာ နှင့် အနောက် မျက် နှာမှ ၎င်း၊ ထိုသူတို့
သည်လည်း၊ သိနိမ်ပြည်မှ၎င်း လာကြလိမ့်မည်
ဟုမိန့်တော်မူ၏။
၁၃ အိုမိုဃ်း ကောင်း ကင် ထူ၊ သီ ခြင်း ဆို ကြ
လော့၊ အိုမြေကြီး၊ ဝမ်းမြောက်ခြင်းရှိလော့၊ အို
တောင်များတို့၊ ရွှင်လန်း စွာသီခြင်းဆိုကြလော့၊
အကြောင်း မူကား၊ ထာဝရဘုရား သည် မိမိလူ
တို့ကိုနှစ်သိမ့်စေတော်မူ၏၊ ဆင်းရဲခံရသောမိမိ
လူတို့ကိုကယ်မသနားတော်မူ၏။
၁၄ ဇိအုန်ကလည်း၊ ထာဝရဘုရားသည်ငါ့ကိုစွန့်
ပြစ် တော် မူပြီ၊ ဘုရားရှင်သည် ငါ့ကို မေ့လျော့
၁၅ တော် မူပြီ ဟု ဆို ထေ သော်၊- မိန်းမသည် မိမိ နို့စို့
သောသားကိုမသနားသည်တိုင်အောင်၊ မိမိနို့ နို့
သူငယ်ကိုမေ့လျော့ နိုင်သလော၊ အကယ်၍မေ့
၁၆ လျော့သော်လည်း၊ သင့်ကို ငါမမေ့ လျော့။- ငါ
သည်ကိုယ်လက်ဝါး၌ သင့်ကိုစာထိုးပြီ၊ သင်၏
၁၇ မြို့ရိုးသည်ငါ့ရှေ့မှာအစဉ်ရှိ၏။- သင်၏သားတို့

ထို့သည် ထျောင်အမြန် ပြုကြလိမ့်မည်။ သင့်ကို
လုယူဖျက်ဆီးသော သူတို့သည် သင့်ထံမှထွက်
၁၈ သွားကြလိမ့်မည်။- အရပ်ရပ်သို့ မျှော်ကြည့်
လော့။ ဤသူအပေါင်းတို့သည် စုဝေး၍ သင့်ထံ
သို့လာကြ၏။ ထာဝရဘုရား မိန့်တော်မူသည်
ကား။ငါအသက်ရှင်သည်ဖြစ်၍၊သင်သည်တင့်
တယ်သော အဝတ် ကို ဝတ် သကဲ့သို့၊ ဤ သူ အ
ပေါင်းတို့ကိုဝတ်လိမ့်မည်။မင်္ဂလာဆောင်သတို့
သမီး ပြုသည်နည်းတူ တန်ဆာ ဆင်လိမ့်မည်။-
၁၉ သင်၌ သုတ်သင် ပယ်ရှင်းသော အရပ်၊ ဖျက်စီး
သောပြည်သည် နေသူများသောကြောင့်ကျဉ်း
ကြလိမ့်မည်။သင့်ကိုကိုက်စားသောသူတို့သည်
၂၀ ဝေးကြလိမ့်မည်။- သင်၏သားများ ဆုံး
ပြီးမှ၊ တဖန် ရပြန်သော သားတို့က၊ နေ ရာ မ
လောက် ပါ။ နေစရာ အရပ် ကို ပေး ပါ ဟု၊ သင့်
၂၁ အားတောင်းကြလေဦးမည်။-သင်ကလည်း၊ဤ
သူတို့ကိုငါ့အားအဘယ်သူဖြစ်ဖွားစေသနည်း။
ငါသည်သားဆုံးသောသူ၊ ဆိတ်ညံ့လျက် နေရ
သောသူ၊နှင်ထုတ်ခြင်းကိုခံရသဖြင့်၊ အဝေးသို့
ထည့်ရသော သူဖြစ် ၍၊ ဤသူတို့ကို အဘယ်သူ
မွေးစားသနည်း။ ငါသည်တယောက်တည်းနေ
ရသည်ဖြစ်၍၊ ဤသူတို့သည် အဘယ်မှာ ရှိကြ
သနည်းဟုအောင်းမေ့လိမ့်မည်။
၂၂ အရှင်ထာဝရ ဘုရား မိန့်တော် မူသည် ကား၊
ကြည့်ရှုလော့။ ငါသည် အတိုင်း တိုင်း အပြည်
ပြည် ၌ နေသော လူမျိုးတို့အား လက်ကို ချီ၍အ
ထံကိုထူသဖြင့်၊ သူတို့သည် သင်၏ သားသမီး တို့
ကိုလက်နှင့် ပွေ့လျက်၊ ပခုံးပေါ်မှာ ထမ်းလျက်
၂၃ ဆောင်ခဲ့ကြလိမ့်မည်။- ရှင်ဘုရင်တို့သည်သင်
၏အထွေး၊ မိဖုရားတို့သည်သင့်ကိုမွေးစားသော
အမိဖြစ်ကြ လိမ့်မည်၊ သင့်ရှေ့မှာ ဦးညွှတ်ပြပ်
ဝပ်၍၊ သင်၏ခြေ၌မြေမှုန့်ကိုလျက်ကြလိမ့်မည်။
ငါသည်ထာဝရဘုရားဖြစ်ကြောင်းကိုငှင်၊ ငါ့ကို
မျှော်ထင့်သော သူတို့သည် ရှက်ကြောက်ခြင်းမ
ရှိကြောင်းကိုငှင်သင်သိလိမ့်မည်။
၂၄ လုယူရာဥစ္စာကို အားကြီး သောသူ၏ လက်မှ
ယူရမည်လော၊ တရားသောသူသိမ်းသွားသော
၂၅ လူတို့ကိုနှုတ်ရမည်လော။- ထာဝရဘုရား မိန့်
တော် မူသည် ကား၊ အကယ် စင် စစ် အား ကြီး
သော သူ သိမ်း သွား သော လူ တို့ကို ယူရ မည်၊
ကြောက် မတ် ဖွယ် သော သူ လုယူ ရာ ဥစ္စာ ကို
နှုတ်ရလိမ့်မည်။အကြောင်းမူကား၊ သင်နှင့်ရန်
ဖွေသောသူကို ငါထည်ရန်ဖွေ၍၊ သင်၏သား
၂၆ တို့ကို ကယ်တင်မည်။- သင့်ကိုညှဉ်းဆဲသော
သူတို့ကို သူတို့၏ အသား နှင့် ငါကျွေး မည်။ ချို
သောစပျစ်ရည်ကိုသောက်သကဲ့သို့၊ သူတို့သည်
မိမိအသွေးကိုဝစွာသောက်ရကြမည်။သို့ဖြစ်၍၊
ငါထာဝရဘုရားသည်၊ သင့်ကို ကယ်တင်သော
အရှင်၊သင့်ကိုရွေးနှုတ်သောသခင်၊ယာကုပ်အ
မျိုး၌ တန်ခိုးကြီးသော ဘုရား ဖြစ် ကြောင်းကို၊
လူ အပေါင်း တို့သည် သိရ ကြ လိမ့် မည်ဟု မိန့်
တော်မူ၏

## ၅၀

၁ ထာဝရဘုရားမိန့်တော်မူသည်ကား။ငါနှင်
ထုတ်သောသင်တို့အမိ၏ ဖြတ်စာသည်အဘယ်
မှာရှိသနည်း။ ငါ၌ကြွေးရှိ၍ အဘယ်မည်သော
ကြွေးရှင်ထံ၌သင်တို့ကိုငါရောင်းသနည်း။ သင်
တို့သည်ကိုယ်ပြုသော ဒုစရိုက်အတွက် ရောင်းခံရ
ကြ၏။ သင်တို့အပြစ် ကြောင့်၊ သင်တို့အမိကိုငါ
၂ နှင်ထုတ် လိုက် ၏။- ငါ လာ သော အခါ အ ဘယ်
ကြောင့် လူ မ ရှိ သနည်း။ ငါခေါ်သော အခါ အ
ဘယ်ကြောင့်မထူးသနည်း။ငါသည်မရွေးမနှုတ်
နိုင် အောင် လက် တို သလော။ ကယ် နှုတ် နိုင်
သော တန်ခိုး မရှိသလော။ ကြည့်ရှု လော့။ ငါ
ဆုံးမသဖြင့်ပင်လယ်ရေသည်ခန်းခြောက်၏။မြစ်
တို့ကို လွင်ပြင် ဖြစ် စေ ၏။ ရေမရှိသောကြောင့်၊
၃ ငါးတို့သည် နံကြ၏။ ရေငတ်၍ သေကြ၏။- ငါ
သည် မိုဃ်းကောင်းကင်ကို နက်သော အဝတ်
ဝတ်စေ၍၊လျှော်တေအဝတ် နှင့်ချုံ၏။
၄ ငါသည် ပင်ပန်းသော သူ အား မစခြင်းငှါ
စကား ပြောတတ်မည် အကြောင်း၊ အရှင် ထာ
ဝရဘုရားသည်လူတတ်၏ နှုတ်သတ္တိကိုငါ့အား
ပေး တော်မူပြီ။ နံနက် အစဉ် အတိုင်း ငါ့ကို နိုး
တော်မူ၏။ ဝါသင်သောသူကဲ့သို့နားထောင်စေ
မည် အကြောင်း၊ ငါ့နားကို နိုး ဆော်တော် မူ၏။-
၅ အရှင်ထာဝရဘုရားသည် ငါ့နားကို ဖွင့်တော်မူ
၍၊ ငါသည်း မငြင်းမဆန်၊ နောက်သို့ မဆုတ်၊-
၆ ရိုက်သောသူတို့အားငါ့ကျောကိုငှင်၊ နားပန်းဆံ
ကိုနှုတ်သော သူတို့အား၊ ငါ့ပါးကိုငှင်ငါအပ်၏။
အရှက် ခွဲခြင်း နှင့် တံထွေး ထွေးခြင်းမှ ငါ သည်
၇ ကိုယ်မျက်နှာကို မဖွဲ။- အရှင် ထာဝရဘုရား
သည် ငါ့ကိုစောင့်မတော်မူလိမ့်မည်။ထိုကြောင့်၊
ငါ မရှုံးရ သည် ဖြစ် ၍၊ ကိုယ် မျက် နှာ ကို မီး
ကျောက် ကဲ့သို့ ထား လျက်၊ ရှက်ကြောက် ခြင်း

၈ ငါ့ကိုအပြစ်လွတ်ရာသို့ ဆိုဆုံးဖြတ်သော
သူသည် အနီးမှာ ရှိ၏။ အဘယ်သူသည် ငါနှင့်
တရား ဆွေးမည်နည်း။ ပြိုင်၍နေကြကုန်အံ့။ အ
ဘယ်သူသည် ငါနှင့် ရန်ဘက်ပြုမည်နည်း။ ထို
၉ သူသည်ချဉ်းကပ်စေ။- ကြည့်ရှုလော့၊ အရှင်
ထာဝရဘုရားသည် ငါ့ကို စောင့်မတော်မူမည်။
အဘယ်သူသည် ငါ့ကို တရားရှုံး စေမည်နည်း။
ထိုသို့သော သူ အပေါင်းတို့သည် အဝတ် ကဲ့သို့
ဟောင်း၍ နွမ်းခြင်းသို့ ရောက် ကြလိမ့်မည်။ ပိုး
ကိုက်စားခြင်းကိုလည်းခံရကြလိမ့်မည်။
၁၀ သင်တို့တွင် အဘယ်သူသည် ထာဝရ ဘုရား
ကိုကြောက်ရွံ့သနည်း။ ထိုသူသည် ကိုယ်တော်
ကျွန်၏ စကားသံကို နားထောင်ပါစေ။ အဘယ်
သူသည်အလင်းမရှိဘဲမှောင်မိုက်၌သွားလာသ
နည်း။ ထိုသူသည်ထာဝရဘုရား၏နာမတော်ကို
၁၁ မှီလျှံ၍၊မိမိဘုရားသခင်ကိုအမှီပြုပါစေ။- မီးကို
ညှိ၍မိမိသို့ကိုမီးပွားတို့နှင့်ဝန်းရံစေသောသူအ
ပေါင်းတို့၊သင်တို့မီး၏အလင်း၌၎င်း၊သင်တို့ပြုစု
သောမီးစများ၌၎င်းသွားလာကြလော့။ ငါ့လက်
၌ခံရသောအကျိုးဟူမူကား၊ သင်တို့သည်ဝမ်း
နည်းလျက်အိပ်ရကြလိမ့်မည်။

၅၁

၁ ဖြောင့် မတ်ခြင်း တရား သို့ လိုက်၍ ထာဝရ
ဘုရားကိုရှာသောသူတို့၊ ငါ့စကားကိုနားထောင်
ကြလော့။သင်တို့ကိုခုတ်ယူရာကျောက်နှင့်၊တူး
၂ ယူရာတွင်း၀ကိုကြည့်ရှုကြလော့။-သင်တို့၏အ
ဘ အာဗြဟံနှင့်၊ သင်တို့ကိုဖွားသော သူစာရာတို့
ကိုကြည့်ရှုကြလော့။ငါသည် တယောက်တည်း
သောသူ အာဗြဟံကိုခေါ်၍၊ ကောင်း ကြီး ပေး
၃ သဖြင့်များပြားစေ၏။- ထိုသို့နှင့်အညီ၊ထာဝရ
ဘုရား သည် ဇိအုန် မြို့ကို ချမ်းသာ ပေး တော်မူ
မည်။ သူ၏ ဆိတ်ညံ့ရာအရပ်အလုံးစုံတို့ကိုချမ်း
သာပေးမည်။ သူ၏တောကို ဧဒင် အရပ် ကဲ့သို့
၎င်း၊သူ၏တွင်ပြင်ကိုထာဝရဘုရား၏ဥယျာဉ်ကဲ့
သို့၎င်းဖြစ်စေတော်မူသဖြင့်၊ ဇိအုန်မြို့သည်ဝမ်း
မြောက်ရွှင်လန်းခြင်း၊ကျေးဇူးတော်ကိုချီးမွမ်း
ခြင်း၊သီခြင်း ဆိုခြင်းနှင့်ပြည့်စုံလိမ့်မည်။
၄ ငါ၏လူမျိုး၊ငါ့လူစုတို့၊ ငါ့စကားကို နားထောင်
နားလှူကြလော့။ငါ့ထံမှတရားထွက်၍ငါ၏စီရင်ချက်
၅ သည်လူများထင်းစရာဘို့တည်ရလိမ့်မည်။- ငါ
၏ဖြောင့်မတ်ခြင်းတရားသည်အနီးမှာရှိ၏။ငါ၏
ကယ်တင်ခြင်းတရားသည်ထွက်သွားပြီ။လက်

ရုံးသည် လူတို့တွင် တရားမှုကို စီရင် ထိမ့်မည်။
တကျွန်းတနိုင်ငံသားတို့သည် ငါ့ကိုမျှော်ထင့်၍၊
၆ ငါ့လက် ရုံး ကို ကိုး စား ကြ လိမ့် မည်။- မိုဃ်း
ကောင်းကင်ကိုမျှော်၍ကြည့်ကြလော့၊ မြေကြီး
ကိုလည်း ငုံ့၍ကြည့်ကြလော့။မိုဃ်းကောင်းကင်
သည်မီးခိုးကဲ့သို့ကွယ်ပျောက်၍၊မြေကြီးသည်
အဝတ်ကဲ့သို့ ဟောင်း နွမ်း လိမ့် မည်။ မြေကြီး
သားတို့သည်ခြင်ကောင်ကဲ့သို့သေကြလိမ့်မည်။
ငါ၏ ကယ်တင်ခြင်းတရားမူကား၊ အစဉ်အမြဲ
တည် လိမ့် မည်။ ငါ ၏ ဖြောင့် မတ် ခြင်း တရား
လည်း ပျောက်ခြင်းမရှိနိုင်ရာ။
၇ ဖြောင့်မတ်ခြင်းတရားကို သိ၍၊ ငါ၏တရား
ကို နှလုံး သွင်း မိသော သူတို့၊ ငါ့စကားကို နား
ထောင်ကြလော့၊ လူတို့သည်အပြစ်တင်မည်ကို
မစိုး ရိမ်ကြ နှင့်၊ လူတို့ ကဲ့ရဲ့ ခြင်းကို မကြောက်
၈ ကြနှင့်။- အကြောင်းမူကား၊ ပိုးရွတို့သည် သိုး
မွေး အဝတ်ကို ကိုက်စား သကဲ့သို့၊ ထိုသူ တို့ကို
ကိုက်စားဖျက်ဆီးကြလိမ့်မည်။ငါ၏ဖြောင့်မတ်
ခြင်းတရားမူကား၊နိစ္စထာဝရဖြစ်၍၊ ငါ၏ကယ်
တင် ခြင်း တရား သည် ထည်း ကမ္ဘာ အဆက်
ဆက်တည်လိမ့်သတည်း။
၉ အိုထာဝရဘုရား၏လက်ရုံးတော်၊ နိုးတော်မူ
ပါ။ နိုး၍ ခွန်အားကို ယူတော်မူပါ။ ရှေးကာလ
နှင့် လွန်ဘူးသော ကာလ၌ကဲ့သို့ နိုးတော် မူပါ။
ရာခပ်ကို ဒဏ်ခတ်၍ နဂါးကို နာ စေသော သူ
၁၀ ကား၊ကိုယ်တော်ပင်မဟုတ်လော။-ပင်လယ်ရေ၊
နက်နဲရာရေ တို့ကို ခန်းခြောက် စေ၍၊ ပင်လယ်
နက် နဲ ရာ အရပ် တို့ကို၊ ရွေးနှုတ် သော သူများ
သွားစရာလမ်းဖြစ်စေသောသူကား၊ကိုယ်တော်
၁၁ ပင် မဟုတ် လော။- သို့ ဖြစ်၍၊ ထာဝရဘုရား
ကယ်လွှတ်တော်မူသော သူတို့သည် ပြန်လာ၍
သီခြင်းဆိုလျက်၊ ထာဝရဝမ်းမြောက်ခြင်းသရ
ဖူကိုဆောင်းလျက်၊ ဇိအုန်မြို့သို့ရောက်ကြလိမ့်
မည်။ ဝမ်းမြောက်ရွှင်လန်းခြင်း အခွင့်ကိုရကြ
၍၊ ဝမ်းနည်းခြင်းနှင့်ညည်းတွားခြင်းသည်ပြေး
၁၂ သွားရလိမ့်မည်။-သင်တို့ကိုနှစ်သိမ့်စေသောသူ
ကား၊ အခြားသူမဟုတ်၊ ငါကိုယ်တိုင်ပေတည်း။
သေရသော လူကို၎င်း၊ မြက်ပင် ကဲ့သို့ ဖြစ်လတံ့
သောလူသားကို၎င်း၊ သင်သည် ကြောက်ရမည်
အကြောင်း၊ အဘယ် သို့ သော အသော ရှိသ
၁၃ နည်း။- မိုဃ်းကောင်းကင်ကို ဖြန့်တော်မူသ
သော၊ မြေကြီးကိုလည်းတည်တော်မူထသော၊

သင့်ကို ဖန်ဆင်းတော်မူသော ထာဝရဘုရားကို
သင်သည်မေ့လျော့၍၊ ဖွည်းဆဲသော လူသည်
ဖျက်ဆီးလုပြီလု ဖိတ်ထင်နှင့်၊ သူ၏ဒေါသ
အမျက်ကို အစဉ်ကြောက်ရမည် အကြောင်း၊
အဘယ် သို့ သော သူ ဖြစ်သနည်း။ ထိုမှာ
ဖွည်းဆဲသောသူ၏ဒေါသအမျက် ဘယ်
၁၄ မှာရှိသနည်း။ အချုပ်ခံရသောလူသည်ထောင်
ထဲမှာ မသေ၊ ရေစာ မပြတ်၊ လျင်မြန်စွာ ကယ်
၁၅ နှုတ်ခြင်းသို့ ရောက်လိမ့်မည်။- ငါသည် သမုဒ္ဒ
ရာကိုဆူစေ၍ လှိုင်းတံပိုးကို ထွန်းစေသောသင်၏
ဘုရားသခင် ထာဝရဘုရား ဖြစ်၏။ ထိုဘုရား၏
နာမတော်ကား၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာ
၁၆ ဝရဘုရား ပေတည်း။- မိုဃ်း ကောင်း ကင် ကို
ဆောက်၍၊ မြေကြီးကိုတည်စေခြင်းငှါရင်၊ သင်
သည် ငါ၏ လူမျိုးဖြစ်၏ဟု ဇိအုန်မြို့ကိုပြောစေ
ခြင်းငှါရင်၊ စကားကိုသင်၏နှုတ်ထဲမှာငါထား
ပြီ။ လက်၏အရိပ်နှင့်သင့်ကိုငါမိုးပြီ။
၁၇ ထာဝရဘုရား၏ လက်တော်၌ အမျက်တော်
ဖလား ကို သောက် သော ယေရုရှလင် မြို့၊ နိုး
လော့၊ နိုး၍ထလော့၊ သင်သည် တုန်လှုပ်စေသော
ဖလားကို အကုန်သောက်ခဲ့ပြီ။ အနည်အဖတ်
၁၈ ကိုလည်း စုပ်ခဲ့ပြီ။- ကိုယ်တိုင် ဖွားမြင် သော
သားတို့တွင်၊ သင့်ကိုလမ်းပြသော သူတယောက်
မျှမရှိ။ ကိုယ်တိုင် မွေးစား သော သားတို့ တွင်၊
၁၉ သင့်ကိုထက်ဆွဲသောသူတယောက်မျှမရှိ။- အ
ဓာခေါင်းပါး၍လူဆိတ်ညံ့ခြင်းဘေး၊ ထားဖြင့်
ဖျက်ဆီးခြင်းဘေး တည်းဟူသော ဘေးနှစ်ပါး
တို့သည်သင်၏အပေါ်မှာ ရောက်လာသည် ဖြစ်
၍၊သင့်အတွက်အဘယ်သူရိုတွေးမြည်တမ်းသ
နည်း။ ငါသည်အဘယ် သို့ ချမ်းသာ ပေးနိုင်သ
၂၀ နည်း။-သင်၏သားတို့သည်မိန်းမောတွေဝေကြ
၏။ ကျော့ကွင်း၌ဖမ်းမိသော မိုင်ကဲ့သို့ ခပ်သိမ်း
သော ထမ်းဝမှာ အိပ် ၍၊ ထာဝရ ဘုရား၏ အ
မျက်ဒွက်တော်မူခြင်း၊ သင်၏ဘုရားသခင်ဆုံးမ
တော်မူခြင်းနှင့်ဝကြ၏။
၂၁ ထိုကြောင့်၊ဖွည်းဆဲခြင်းကိုခံရသောသူ၊ စပျစ်
ရည်မှတပါး အခြားသော ယစ်မျိုးနှင့် ယစ်မူး
သောသူ၊နားထောင်လော့။- သင်၏အရှင်၊ မိမိ
လူတို့၏အမှုကိုစောင့်တော်မူသောသင်၏ဘုရား
သခင် ထာဝရဘုရား မိန့် တော် မူသည် ကား၊
ကြည့်ရှုလော့၊ တုန်လှုပ်စေသော ဖလား၊ ငါ့အ
မျက်တော်ဖလား၏ အနည် အဖတ်ကို သင်၏
လက် မှ ငါ ရုပ် ၍၊ သင် သည် နောက် တဖန် မ
၂၃ သောက်ရ။ သင်သည်ခရီးသွားသောသူတို့ရှေ့
မှာကိုယ်ကိုမြေတန်တားလုပ်၍၊အလျားဝပ်စေ
ခြင်းငှါ ဝပ်လျက် နေတော့၊ ငါကျော်သွားမည်
ဟုဆို၍၊ သင့်ကိုဖွည်းဆဲသော သူတို့ လက်၌
ထိုဖလားကိုငါထားမည်။

၅၂

၁ ဇိအုန်မြို့၊ နိုးလော့။ နိုး၍ ခွန် အားကို ဝတ်
လော့။ ယေရုရှလင်မြို့ တည်းဟူသော၊ သန့်
ရှင်းသောမြို့၊ သင်၏တင့်တယ်သောအဝတ်တန်
ဆာ တို့ကို ဝတ်ဆင် လော့။ အကြောင်း မူကား၊
နောက်တဖန် အရေဖျားလှီးခြင်းကိုမခံသောသူ
နှင့်ညစ်ညူးသောသူတို့သည်သင်၏အထဲသို့မဝင်
၂ ရကြ။- ယေရုရှလင်မြို့၊ကိုယ်၌ကပ်သောမြေ
မှုန့်ကိုခါလိုက်၍၊ မြင့်သောအရပ်၌ ထိုင်လော့။
ချုပ်ထားလျက်ရှိသောဇိအုန်သတို့သမီး၊သင်
၃ ၏လည်ကြိုးကို ဖြုတ်လော့။- ထာဝရဘုရားမိန့်
တော်မူသည်ကား၊သင်တို့သည်ကိုယ်အိုးငွေကို
မရဘဲကျွန်ခံရသည်ဖြစ်၍၊ ငွေမပေးဘဲရွေးခြင်း
၄ သို့ ရောက်ကြလိမ့်မည်။- အရှင်ထာဝရဘုရား
မိန့်တော်မူသည်ကား၊ ငါ၏လူတို့သည်အထက်
ကအဲဂုတ္တုပြည်၌ တည်းခိုခြင်းငှါ သွားကြ
၏။ နောက်မှအာရှုရိလူတို့သည် အကြောင်းမရှိ
၅ ဘဲညှဉ်းဆဲကြ၏။- ထာဝရဘုရား မိန့်တော်မူ
သည်ကား၊ ငါ၏ လူတို့ကို အကြောင်းမရှိဘဲလု
သွား၍၊ အစိုးရသောသူတို့သည် တကြွားကြွားလျက်
နာမကိုနေ့တိုင်းကဲ့ရဲ့ကြသည်ဖြစ်၍၊ ငါသည်
၆ အဘယ်သို့ပြုရမည်နည်း။ သို့ဖြစ်၍၊ငါ၏လူတို့
သည်ငါ့ကိုသိကြလိမ့်မည်။ ဂတိထားသောသူ
ကား၊ ငါဖြစ်သည်ကိုအမှန်ရောက်မှသိကြလိမ့်
မည်။အကယ်စင်စစ်ငါရှိသည်ဟုထာဝရဘုရား
မိန့်တော်မူ၏။
၇ ငြိမ်သက်ခြင်း၏ ဝမ်းမြောက်စရာသိတင်းကို
ကြားပြောသောသူ၊ကယ်တင်ခြင်းကောင်းကျိုး
ချမ်းသာ၏ ဝမ်းမြောက် စရာ သိတင်းကို ကြား
ပြောသောသူ၊ သင်၏ဘုရားသခင်မိုးစံတော်မူ၏
ဟု၊ ဇိအုန်မြို့အား ပြောသောသူ၏ ခြေတို့သည်
တောင်ပေါ်မှာ အလွန်တင့်တယ်လှစွတကား။-
၈ သင်၏ ကင်းစောင့်တို့၏ အသံကို နားထောင် ကြ
လော့၊ သူတို့ သည် အသံကို လွှင့်၍၊ ရွှင်လန်း
သောအသံနှင့်တညီတညွတ်တည်း ဈေးကြော်
ကြ၏။ အကြောင်းမူကား၊ ထာဝရဘုရားသည်

နိဂုံးပြန်ဆိုတော်မူကြောင်းကို ကိုယ်
၈ ထိုင်မြင်ရကြ၏။- ယေရုရှလင်မြို့၌ ပြိုပျက်ရာအ
ရပ်တို့၊ တညီတညွတ်တည်း သီခြင်း ဆိုသံနှင့်
ကျွေးကြော်ကြလော့၊ ထာဝရဘုရားသည် မိမိ
လူတို့ကို နှစ်သိမ့်စေတော်မူပြီ၊ ယေရုရှလင်မြို့
၁၀ ကိုရွေးနှုတ်တော်မူပြီ။- ထာဝရဘုရားသည်ခပ်
သိမ်းသော လူအမျိုးမျိုးတို့ရှေ့မှာ၊ သန့်ရှင်း
သောလက်ရုံးတော်ကိုဖွင့်ပြတော်မူသဖြင့်၊ မြေ
ကြီးစွန်းမှိသမျှ တို့သည် ငါတို့ဘုရားသခင်၏
ကယ်တင်တော်မူခြင်းကျေးဇူးကို သိမြင်ကြ
ထတုံ့။
၁၁ ထွက်ကြ၊ ထွက်ကြ၊ ထိုအရပ်မှ ထွက်သွား
ကြလော့၊ မစင်ကြယ်သောအရာကိုလက်နှင့်မှ
မတို့ကြနှင့်၊ ထိုအရပ်ထဲကထွက်သွားကြလော့၊
ထာဝရဘုရား၏ အဆောက်အဦးတို့ကို ဆောင်
ရွက်သောသူတို့၊ သန့်ရှင်းခြင်းရှိကြလော့။-
၁၂ သင်တို့သည်အလျင်အမြန်မထွက်ရကြ၊ ပြေး၍
မသွားရကြ၊ ထာဝရဘုရားသည် သင်တို့ရှေ့၌
ကြွတော်မူမည်၊ နောက်၌လည်း ဣသရေလအ
မျိုး၏ဘုရားသခင်သည် သင်တို့အကွယ်အကာ
ဖြစ်တော်မူမည်
၁၃ ကြည့်ရှုလော့၊ ကျွန်သည် အမှုဆောင်၍
အောင်လိမ့်မည်၊ ချီးမြှောက်ချီးမြှင့်ခြင်းသို့
၁၄ ရောက်၍၊အလွန်အမြတ်ဖြစ်လိမ့်မည်။-သူသည်
လူမဟုတ်သကဲ့သို့မျက်နှာပျက်ခြင်း၊ လူသားမ
ဟုတ်သကဲ့သို့အဆင်းအသရေပျက်ခြင်းရှိသည်
ကို၊ အများသောသူတို့သည် အံ့ဩ၍ မိန်းမော
၁၅ ကြသည်ဖြစ်၍၊- ထိုနည်းတူသူသည်အများသော
လူမျိုးတို့ကို သန့်ရှင်းစေလိမ့်မည်၊ ရှေ့တော်၌
ရှင်ဘုရင်တို့သည်မိမိတို့နှုတ်ကိုပိတ်၍ နေရကြ
လိမ့်မည်၊ သူတပါးမပြောဘူးသောအရာကိုသူတို့
သည်မြင်ကြလိမ့်မည်၊ မကြားဘူးသောအရာ
ကိုလည်းနားလည်ကြလိမ့်မည်။

၅၃

၁ ငါတို့ဟောပြောသောသိတင်းစကားကို အ
ဘယ်သူယုံသနည်း၊ ထာဝရဘုရား၏ လက်
ရုံးတော်သည် အဘယ်သူအား ထင်ရှားတော်မူသ
၂ နည်း။-ထာဝရဘုရား၏ကျွန်သည်အညွန့်ကဲ့သို့
၎င်း၊ သွေ့ခြောက်သောမြေ၌ပေါက်သောအမြစ်
ကဲ့သို့၎င်း၊ ရှေ့တော်၌ကြီးပွား၏၊ ပမာဏပြုစရာ
အဆင်းတင့်တယ်ခြင်းမရှိ။ ချစ်သို့ဖွယ်သော
၃ မျက်နှာလက္ခဏာနှင့် မပြည့်စုံ။- မထီမဲ့မြင်ပြု
ခြင်းကိုခံ၍၊လူတို့တွင် အယုတ်ဆုံးသောသူဖြစ်
၏၊ ပြင်းပြသောသူ၊ နာကြင်ခြင်းဝေဒနာနှင့်ကျွမ်း
ဝင်သောသူဖြစ်၏၊ သူတပါးမျက်နှာလွှဲခြင်းကို
ခံရသောသူကဲ့သို့ဖြစ်၏၊ မထီမဲ့မြင်ပြုခြင်းကိုခံ
၄ လျက်ရှိ၍၊ ငါတို့သည် မရိုသေကြ။- သို့သော်
လည်း၊ ထိုသူသည် ငါတို့အနာရောဂါ ဝေဒနာ
များကို ယူတင်ဆောင်ရွက် လေ၏၊ ဒဏ်ခတ်
တော်မူခြင်းကို၎င်း၊ ဘုရားသခင်ဆုံးမ၍ နှိပ်စက်
တော်မူခြင်းကို၎င်း ခံရသောသူဖြစ်သည်ဟု၊ ငါ
၅ တို့သည်ထင်မှတ်ကြပြီ။- ထိုသူသည်ငါတို့အပြစ်
ကျူးခြင်းအပြစ်များကြောင့်၊ နာကြင်စွာ ထိုး
ခြင်း၊ နှိပ်စက်ခြင်းကို ခံရလေ၏၊ ငါတို့၏ငြိမ်
သက်ခြင်းချမ်းသာကို ဖြစ်စေသော ဆုံးမခြင်း
သည်သူ့အပေါ်သို့ရောက်၍၊ သူခံရသောဒဏ်
ချက်အားဖြင့်၊ငါတို့သည်အနာပျောက်လျက်ရှိ
၆ ကြ၏။- ငါတို့ရှိသမျှသည် သိုးကဲ့သို့ လမ်းလွဲ
လျက်၊ ကိုယ်လမ်းသို့ အသီးအသီးလိုက်သွား
ကြသည်ဖြစ်၍၊ ထာဝရဘုရားသည် ခပ်သိမ်း
သောငါတို့၏ အပြစ်များကို သူ့အပေါ်၌ တင်
၇ တော်မူ၏။- ထိုသူသည်ညှဉ်းဆဲခြင်းနှင့် နှိပ်စက်
ခြင်းကိုခံ၍ နှုတ်ကိုမဖွင့်ဘဲနေ၏၊ အသေသတ်
ခြင်းငှါ ဆောင်သွားသော သိုးသငယ်ကဲ့သို့ သူ
ကိုဆောင်သွား၍၊ သိုးသည် အမွေးညှပ်သော
သူရှေ့မှာ ငြိမ်ပြည်ဘဲနေသကဲ့သို့၊ သူသည်နှုတ်ကို
၈ မဖွင့်ဘဲနေ၏။- မတရားစွာ စီရင်ခြင်းအားဖြင့်
သူကိုထုတ်သွားကြ၏၊ အသက်ရှင်သောသူတို့
၏နေရာမှသူကို ဖြတ်သင်ပယ်ရှင်းသည် ဖြစ်၍၊
သူ၏အမျိုးအနွယ်ကို အဘယ်သူ ပြဿနိမည်
နည်း။ ငါ၏လူမျိုးအပြစ်ကြောင့်ဒဏ်ခတ်တော်
မူခြင်းကိုခံလေ၏။- ပြစ်မှားခြင်းကို မပြု၊ သူ၏
နှုတ်၌ ပုသာမရှိသော်လည်း၊ လူဆိုးတို့နှင့် အ
တူမြေမြှုပ်ခြင်းငှါစီရင်ကြ၏၊သို့ရာတွင်သေပြီး
မှ သဌေးနှင့်ရှိ၏။
၁၀ ထာဝရဘုရားသည်သူကိုနှိပ်စက်ခြင်းငှါအ
လိုတော်ရှိ၍နာစေတော်မူ၏၊သူသည်အပြစ်ဖြေ
သောယဇ်ကိုပူဇော်ပြီးမှ၊ အမျိုးအနွယ်တော်
ကိုမြင်ရလိမ့်မည်၊အသက်တော်လည်းရှည်လိမ့်
မည်၊ ထာဝရဘုရား၏အကြံတော်သည်လည်း
သူ၏လက်၌ ပြည့်စုံခြင်းသို့ ရောက်လိမ့်မည်။-
၁၁ မိမိစိတ်ဝိညာဉ်ခံရသောဒုက္ခ၏အကျိုးကိုမိမိ
မြင်၍ကျေနပ်ရလိမ့်မည်၊ထိုသို့ပြုသင့်မြတ်သော၊ငါ၏
ကျွန်ကို [illegible] အားဖြင့်၊သူသည်အများ

သောသူတို့ကိုခြောင်မတ်ရာ၌တဦးဆောင်လိမ့်မည်။
သူတို့၏အပြစ်ကိုကိုယ်တိုင်ဆောင်ရွက်ရ၏။—
၁၂ ထိုသို့မိမိအသက်ကိုသေခြင်း၌သွန်း၍၊ မတရား
သောသူတို့နှင့်ရေတွက်ဝင်ခြင်းသို့ ရောက်သ
ဖြင့်၊ လူများတို့၏အပြစ်ကိုဆောင်ရွက်၍၊ မ
တရားသောသူတို့အဖို့တောင်းပန်သောကြောင့်၊
လူကြီးတို့ကိုသူ၏အဖို့ဖြစ်စေခြင်းငှါ ငါခွဲမည်။
အစွမ်းသတ္တိရှိသောသူတို့ကိုသူ၏ထက်ရဥစ္စာ
ကဲ့သို့၊ ဥယျာဉ်ကိုင်ဝေဝေနိရသောအစွမ်းရှိလိမ့်
မည်။

၅၄

၁ သားမဖွားသောထမ်းမ၊ ဝမ်းမြောက်လော့။
ထားဖွားခြင်းဝေဒနာကိုမခံသေးသောမိန်းမ၊
ကျွေးကြော်သော်ခစ်ထော့။ အကြောင်းမူကား၊
ခင်ပွန်းထားသောမိန်းမသည်လင်ရှိသောမိန်းမထက်သာ
၍ များသောသားတို့ကိုဖွားမြင်ပြီဟုထာဝရ
ဘုရားမိန့်တော်မူ၏။— သင်၏တဲရာကိုကျယ်စေ
လော့။ သင်၏နေရာကုလားကာကြက်၊ ကြက်ဦး
ထော့။ နှမ်းချောသောမိတ်မရှိနှင့်။ ကြိုးတို့ကိုရှည်
၃ စေဦးလော့။ တိုင်တို့ကိုခိုင်ခံ့စေလော့။— အ
ကြောင်းမူကား၊ သင်သည်လက်ျာထက်၊ လက်ဝဲ
ထက်၌ထိုးပွားလိမ့်မည်။ သင်၏အမျိုးအနွယ်
သည်တပါးအမျိုးသားတို့ကိုအမွေခံ၍၊ သူတို့၏
၄ ဆိတ်ညံသောမြို့တို့၌နေကြလိမ့်မည်။— မစိုးရိမ်
နှင့်။ ရှက်ကြောက်ခြင်းသို့မရောက်ရ။ မျက်နှာမ
ပျက်နှင့်။ အရှက်ကွဲခြင်းကိုမခံရ။ အသက်ငယ်
စဉ်အခါခံရသောရှက်ကြောက်ခြင်းကိုမေ့
လျော့လိမ့်မည်။ မုဆိုးမဖြစ်၍ခံရသောကဲ့ရဲ့ခြင်း
၅ ကိုနောက်တဖန်မအောက်မေ့ရ။— အကြောင်းမူ
ကား၊ သင့်ကိုဖန်ဆင်းသောသူသည်သင်၏ထင်
ဖြစ်တော်မူ၏။ နာမတော်ကား၊ ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားတည်း။ သင့်ကိုရွေးနှုတ်
သောသူသည်ဣသရေလအမျိုး၌သန့်ရှင်းသော
ဘုရားဖြစ်တော်မူ၏။ မြေကြီးတပြင်လုံးကိုအစိုး
၆ ရသောဘုရားဟူ၍ခေါ်ရကြ၏။— စွန့်ပြစ်၍စိတ်
ပူပြင်သောမိန်းမ၊ ငယ်စဉ်တွင်မယားဖြစ်၍၊
နောက်မှငြင်းပယ်သောမိန်းမကိုတဖန်ခေါ်သကဲ့
သို့သင့်ကိုငါခေါ်မည်ဟု၊ သင်၏ဘုရားသခင်မိန့်
၇ တော်မူ၏။— သင့်ကိုခဏသာငါစွန့်သည်ဖြစ်၍၊
များစွာသောကရုဏာနှင့်တဖန်သိမ်းဆည်းဦး
၈ မည်။— ပြင်းစွာသောအမျက်ထွက်၍ခဏမျှငါ
မျက်နှာလွှဲသော်လည်း၊ ထာဝရမေတ္တာနှင့်သင့်

ကိုကယ်မသနား၍မည်ဟု၊ သင့်ကိုရွေးနှုတ်
၉ သောထာဝရဘုရားမိန့်တော်မူ၏။— နောဧ၏
ထက်၌ လွှမ်းမိုးသောရေကိုငါသည်မှတ်၍၊ ထို
ရေသည်မြေကြီးကိုနောက်တဖန်မလွှမ်းမိုးရ
ဟုကျိန်ဆိုခြင်းကဲ့သို့သည်နည်းတူ၊ သင့်ကိုအ
မျက်မထွက်၊ မဆုံးမဟုကျိန်ဆိုခြင်းကိုပြုပြီ။—
၁၀ တောင်ကြီးတို့သည်ရွေ၍၊ တောင်ငယ်တို့သည်
လှုပ်ရှားသော်လည်း၊ ငါ၏မေတ္တာသည်သင့်မှ
မရွေရ။ ငါ၏ငြိမ်သက်ခြင်းပဋိညာဉ်လည်း မ
လှုပ်ရှားရဟု၊ သင့်၌သနားခြင်းကရုဏာစိတ်ရှိ
တော်မူသောထာဝရဘုရားမိန့်တော်မူ၏။
၁၁ ဆင်းရဲခြင်းနှင့်မိုယ်းသက်မုန်တိုင်း
တိုက်ခြင်းကိုခံရ၍၊ သက်သာမရနိုင်သောသူ၊
သင်၏တိုက်ကိုဟင်းသပတ္တမြားနှင့်ငါစီ
၁၂ စပ်မည်။ တိုက်မြစ်ကိုနီလာဖြင့်၎င်း၊— ပြတင်းတို့
ကိုကျောက်နီဖြင့်၎င်း၊ တံခါးတို့ကိုပတ္တမြားဖြင့်
၎င်း၊ ပတ်ဝန်းကျင်တန်ဆာများကိုကျောက်မြတ်
၁၃ အမျိုးမျိုးဖြင့်၎င်း ငါပြီးစေမည်။ သင်၏သားတို့
အပေါင်းတို့သည် ထာဝရဘုရား ဆုံးမသွန်သင်
တော်မူသောသူဖြစ်၍၊ များစွာသော စည်းစိမ်
၁၄ ချမ်းသာနှင့် ပြည့်စုံကြလိမ့်မည်။— သင်သည်
ဖြောင့်မတ်ခြင်းတရားအားဖြင့် တည်လိမ့်မည်။
ညှဉ်းဆဲခြင်းနှင့်ဝေးသည်ဖြစ်၍ မကြောက်ရ။
ထိတ်လန့်ခြင်းသည်လည်းဝေး၍၊ သင့်အနီးသို့
၁၅ မရောက်ရ။— ငါ၏အခွင့်မရှိဘဲသင့်တဖက်၌အ
ထယ်သူများနေရာမကျရ။ နေရာကျ၍ဘုရားသောသူတို့
၁၆ ထည့်သင့်အကျိုးသို့ဝင်စားကြလိမ့်မည်။— မီးကို
မှုတ်၍၊ မိမိအလုပ်တည်းဟူသောလက်နက်ကို
ထုပ်တတ်သောပန်းပဲသည်၎င်း၊ ဖျက်ဆီးစေခြင်း
၁၇ ငှါဖျက်ဆီးသောသူကို၎င်း ငါဖန်ဆင်း၏။— သင့်
တဖက်၌လုပ်သောလက်နက်တစုံတခုမျှအထမ
မြောက်ရ။ သင့်ကိုတရားတွေ့သောသူမည်သည်
ကား၊ အရှုံးခံရလိမ့်မည်။ ထာဝရဘုရား၏ကျွန်
တို့သည် ထိုသို့သောအခွင့်ကိုခံရ၍၊ ငါကြောင့်
ဖြောင့်မတ်ရာသို့ရောက်ရကြလိမ့်မည်ဟု၊ ထာ
ဝရဘုရားမိန့်တော်မူ၏။

၅၅

၁ ဟိုး၊ ရေငတ်သောသူအပေါင်းတို့၊ ရေရှိရာသို့
လာကြလော့။ ငွေမရှိသောသူတို့၊ လာကြ၊ ဝယ်
၍စားသောက်ကြလော့။ ငွေမပါဘဲ၊ အဘိုးကို
ပေးဘဲလာ၍၊ စပျစ်ရည်နှင့်နို့ကိုဝယ်ကြလော့။—
၂ အစာမဟုတ်သောအရာအဖို့သင်တို့ငွေကိုရှင်း၊

အမှတ်မပြေနိုင်သောအရာအဖို့ သင်တို့ငွေကို
ငှင်၊အထယ်ကြောင့်ကုန်စေကြသနည်း။စကား
ကိုစေ့စေ့နားထောင်လျက်၊ကောင်းသောအစာ
ကိုစားကြလော့။သင်တို့၏ဝိညာဉ်သည်ရှိသော
၃ အရာတို့၌မိမိကိုမိမိမွေ့လျော်စေလိမ့်မည်။— နား
ညွတ်သော နားနှင့် ငါ့ထံသို့လာကြလော့၊ နား
ထောင် ကြ လော့။ သို့ပြုလျှင် သင်တို့၏ဝိညာဉ်
သည် အသက်ရှင်ရ လိမ့်မည်။ ငါသည်လည်း၊
သင်တို့နှင့် ထာဝရ ပဋိညာဉ် ပြု၍၊ ဒါဝိဒ်၌မြဲမြဲ
သော ကျေးဇူး တော်ကို သင်တို့အား ပေးမည်။—
၄ ကြည့်ရှုလော့၊ ထိုသူကို ဥပဒေသယ်ဆရာဖြစ်စေ
ခြင်းငှါ၎င်း၊ စီရင်အုပ်စိုးသောအရှင်ဖြစ်စေခြင်း
၅ ငှါ၎င်း၊လူမျိုးတို့အားငါပေးပြီ။—ကြည့်ရှုလော့၊
သင်သည်မသိဘူးသောလူမျိုးကိုခေါ်လိမ့်မည်။
သင့်ကိုမသိဘူးသောလူမျိုးတို့သည်လည်း၊သင်
၏ဘုရားသခင်ထာဝရဘုရား၊ဣသရေလအမျိုး
၏သန့်ရှင်းသော ဘုရားကြောင့်၊ သင့်ထံသို့ ပြေး
လာကြလိမ့်မည်။ ထိုဘုရားသည်သင်၏ဘုန်းကို
ထွန်းစေတော်မူ၏။
၆ တွေ့နိုင်သည် ကာလ တွင် ထာဝရဘုရား ကို
ရှာကြလော့၊ နီးတော်မူသည် ကာလတွင် ဆု
၇ တောင်းပဋ္ဌနာပြုကြလော့။— ဆိုးသောသူသည်
မိမိလမ်းကို၎င်း၊မတရားသောသူသည်မိမိအကြံ
ထို့ကို၎င်း စွန့်ပြစ်၍၊ ထာဝရဘုရား ထံတော်သို့
ပြောင်းလဲပါစေ။ သို့ပြုလျှင် သနားတော်မူလိမ့်
မည်။ ငါတို့ဘုရားသခင် ထံတော်သို့ ပြောင်းလဲ
ပါစေ။ သို့ပြုလျှင် အထူးသဖြင့် အပြစ်ကို လွှတ်
၈ တော်မူလိမ့်မည်။— ထာဝရဘုရား မိန့် တော် မူ
သည်ကား၊ ငါ၏အကြံအစည်သည် သင်တို့၏
အကြံအစည်နှင့်မတူ။ငါ၏အကျင့်သည်လည်း
၉ သင်တို့၏အကျင့်နှင့်မတူ။— မိုဃ်းကောင်းကင်
သည်မြေကြီးထက်သာ၍မြင့်သကဲ့သို့၊ ငါ၏အ
ကျင့်သည်သင်တို့၏အကျင့်ထက်၎င်း၊ ငါ၏အကြံ
အစည်သည် သင်တို့၏ အကြံအစည်ထက်၎င်း
သာ၍မြင့်၏။
၁၀ မိုဃ်းရေနှင့်မိုဃ်းပွင့်တို့သည်မိုဃ်းကောင်း
ကင်မှဆင်းသက်၍နောက်တဖန်မပြန်၊မြေသည်
မျိုးစေ့ကြဲသောသူအားမျိုးစေ့ကို၎င်း၊ အစာစား
သောသူအား၊ အစာကို၎င်း ပေးမည်အကြောင်း၊
မြေကိုစိုစေသဖြင့်၊အပင်ပေါက်စေ၍၊ အသီးကို
၁၁ သီးစေ သကဲ့သို့၊— ထို အတူ ငါ ၏ နှုတ် ကပတ်
စကားသည်ဖြစ်လိမ့်မည်။အကျိုးမရှိဘဲငါ့ထံသို့
မပြန်ရ။ ငါအလိုကိုပြည့်စုံစေမည်။ ငါစေခိုင်း
၁၂ သော အမှု၌ အောင် လိမ့်မည်။— သင်တို့ သည်
ဝမ်းမြောက်သောစိတ်နှင့်ထွက်၍၊ငြိမ်းသာစွာ
ပို့ခြင်းကိုခံရကြလိမ့်မည်။ တောင်ကြီး၊ တောင်
ငယ်တို့သည် သင်တို့ ရှေ့မှာ သီခြင်း၊ ဆိုသံ နှင့်
ကျွေးကြော်၍၊တော၌ရှိသမျှသောအပင်တို့သည်
၁၃ လက်ခုပ်တီးကြလိမ့်မည်။— အမျိုးမျိုးသောဆူး
ပင် အရာ၌ ထင်းရှူးပင်နှင့် မုရတုပင် တို့ သည်
ပေါက်ကြလိမ့်မည်။ ထိုအမှုသည်ထာဝရဘုရား
ရှေ့တော်၌ အောင်းမေ့ဖွယ်ရာ၊ မပျောက် မပျက်ရ
သောထာဝရသက်သေဖြစ်ရလိမ့်မည်။

၅၆

၁ ထာဝရဘုရား မိန့်တော်မူသည်ကား၊ တရား
ကိုစောင့်၍ ဖြောင့်မတ်စွာကျင့်ကြလော့။ ငါ၏
ကယ် တင်ခြင်းကျေးဇူး ရောက် မှုန် နှင့်၊ ငါ၏
ဖြောင့်မတ်ခြင်းတရားထင်ရှားမြန်ရောက်လုနီး
၂ ပြီ။—ထိုသို့ပြုသောသူ၊အမြဲစွဲလမ်းသောလူသား
သည်၊ဥပုသ်နေ့ကိုမရှုတ်ချ၊စောင့်ရှောက်၍ခုစ
ရိုက်ကိုမပြုမည်အကြောင်း၊ မိမိလက်ကို ချုပ်
တည်းလျှင်သည်။ မင်္ဂလာရှိ၏။
၃ ထာဝရဘုရား၌ မှီဝဲသော တပါးအမျိုးသား
က၊ ထာဝရဘုရားသည်ငါ့ကို မိမိလူမျိုးနှင့်ရှင်း
ရှင်းခွဲထားတော်မူပြီဟုမဆိုစေနှင့်။ မိန်းမလျာက
လည်း၊ငါသည်သွေ့ခြောက်သောအပင်ဖြစ်သည်
၄ ဟုမဆိုစေနှင့်။—ထာဝရဘုရားမိန့်တော်မူသည်
ကား၊ ငါ၏ဥပုသ်နေ့ကိုစောင့်လျက်၊ငါနှစ်သက်
သော အရာကို ရွေးယူ၍၊ ငါ၏ ပဋိညာဉ်ကို မှီဝဲ
၅ သောမိန်းမလျာတို့အား၊— သားသမီးတို့ထက်မြတ်
သော အရာ၊ မြတ် သော နာမကို ငါ့အိမ်၊ တော်
ထိုင်းအတွင်း၌ငါပေးမည်။ မပျောက်နိုင်သော
၆ ထာဝရနာမကိုသူတို့အားငါပေးမည်။—ထာဝရ
ဘုရား ထံ၌ အမှုစောင့် ခြင်း၊ နာမ တော်ကို ချစ်
ခြင်း၊ ကျွန်တော်ရင်း၊ဖြစ်ခြင်းအလို့ငှါ၊ ထာဝရ
ဘုရား၌မှီဝဲသောတပါးအမျိုးသားတို့ကို၎င်း၊ ဥ
ပုသ်နေ့ကို မရှုတ်ချ၊ စောင့်ရှောက်၍၊ ငါ ၏ ပဋိ
၇ ညာဉ်ကိုစွဲလမ်းသောသူအပေါင်းတို့ကို၎င်း၊—ငါ
၏သန့်ရှင်းသောတောင်သို့ ငါဆောင်ခဲ့၍၊ ငါ၏
ပဋ္ဌနာအိမ်၌ဝမ်းမြောက်စေမည်။သူတို့မီးရှို့ရာ
ယဇ်နှင့်ယဇ်အမျိုးမျိုးတို့ကိုငါ့ယဇ်ပလ္လင်ပေါ်
မှာလက်ခံမည်။ငါ့အိမ်ကိုလူအမျိုးမျိုးဆုတောင်း
၈ ရာအိမ်ဟူ၍ခေါ်ဝေါ်ကြလတံ့။— အရပ်ရပ်၌
ကွဲပြားသောဣသရေလအမျိုးသားတို့ကိုစုစေး

ဓနေသော အရှင် ထာဝရဘုရား မိန့်တော်မူသည်
ကား၊ စုဝေးပြီးသော သူများ၊ မှတပါး အခြား
သော သူ တို့ကို ထိုအစု အဝေး၌ ငါစုဝေး စေဦး
မည်ဟုမိန့် တော်မူ၏။
၉ အိုလယ်ပြင်သား၊ အပေါင်းနှင့် တော၌ ထည်
သော သားရဲ အပေါင်းတို့၊ ကိုက်စားခြင်းငှါလာ
၁၀ ကြလော့။-သူ၏ကင်းစောင့်တို့သည်ကျက်ပိကန်း
ကြ၏၊ ၎င်းသမျှတို့သည် မိုက်ကြ၏၊ အဝံ့ မဟောင်
နိုင် သော ခွေး၊ ယောင် ယမ်း သော ခွေး၊ အိပ်
လျက် အိပ်ချင် အားကြီးသော ခွေး ဖြစ်ကြ ၏။-
၁၁ စားချင် အားကြီး၍ ဝမ်း မပြည့် နိုင်သော ခွေး
ထည်း ဖြစ် ကြ၏၊ ထိုး ထိန်း တို့သည် ထည်း မ
ကြည့်မရှုတတ် ကြ၊ ထိုသိုး ထိန်းမှ သမျှတို့သည်
ထမ်း ဖွဲ့ ၍ မိမိ တို့ ထမ်း သို့ လိုက် ကြ ပြီး၊ တ
ယောက်မှမကြွင်း၊ တညီ တညွတ်တည်းကိုယ်
၁၂ အကျိုး မီးပွားကိုသာရှာကြ၏။-, လာကြ၊ စပျစ်
ရည် ကို ယူခဲ့မည်၊ သေရည် သေရက်ကို ဝစွာ
သောက်ကြပို့၊ ယနေ့ဖြစ်သကဲ့သို့နက်ဖန်နေ့ဖြစ်
လိမ့်မည်၊ ထိုမျှမက၊ သာ၍ကြွယ်ဝလိမ့်မည်ဟု
ဆိုတတ်ကြ၏။

၅၇

၁ ဖြောင့် မတ်သော သူသည် ဆုံး၍ ကျေးဇူး ပြု
တတ်သောသူတို့သည်ပယ်ရှားခြင်းကိုခံရသော
အခါ၊ ဖြောင့်မတ်သောသူကိုမကောင်းသောအ
မှု အရာ ထဲက ရုပ်သိမ်း ပြီဟု၊ အဘယ် သူမျှ မ
၂ ဆင်ခြင်၊ အဘယ်သူမျှမစောင့်ရှောက်ကြ။-ထိုသို့
သောသူသည်ငြိမ်းသာသော့ဝင်ရ၏၊ဖြောင့်မတ်
စွာကျင့်လျက်မိမိအိပ်ရာပေါ်မှာငြိမ်ရ၏။
၃ စုန်းမသား၊ မျောက်မ ထားသော မိစ္ဆာသား၊
၄ မြို့တန်ဆာမသားတို့၊ ချဉ်းကပ်ကြလော့။-သင်
တို့သည် အဘယ်သူကို ကျီစယ်ကြ သနည်း။ အ
ဘယ်သူအား နှုတ်ကိုဖွင့်၍ လျှာကိုထုတ်ပြကြ
သနည်း၊ သင်တို့သည် ဖောက်ပြန်သောအမျိုး၊
အမှား ပြုတတ်သော အမျိုး ဖြစ် ကြ သည် မဟုတ်
၅ လော။- မိမ်းသောသစ်ပင် ရှိသ မျှ အောက် မှာ
ရုပ်တု ဆင်း တုနှင့် တပ် မက် သောသူ၊ မြိုင်ထဲ၊
ကျောက် ဓောင်း အောက် မှာ သူငယ်ကို သတ်
၆ သောသူ မဟုတ်လော။- မြိုင်ထဲမှာ ချောသော
ကျောက် ခဲ တို့တွင် သင်၏ ဘာ ရှိ၏၊ ထိုသို့သော
အရာတို့သည်သင်၏အဖွေဖြစ်၏၊ ထိုသို့သောအ
ရာ ရှေ့ မှာ ထွန်းလင်း ရာ ပူဇော် သကာ နှင့်
သောက်ရည် ပူဇော်သကာကို ပြုတတ်၏၊ ထိုအမှု

၇ ထိုကိုငါ နှစ်သက်တတ်သလော။- မြင့်မှာသော
တောင်ကြီးပေါ်မှာသင်၏ခုတင်ကိုထားပြီးလျှင်၊
၈ ထိုအရပ်သို့တက်၍ယဇ်ပူဇော်တတ်၏။- တံခါး
စောင်းမှ နောက် ဘက် သောကို ထံခါး နှင့် တိုင်
နောက်မှာထား ပြီ၊ ငါမှတပါး အခြားသူထံ၌ အဝ
အဝတ်ကိုချွတ်၍၊ အိပ်ရာပေါ်သို့ တက်လေပြီ၊
မိမိခုတင်ကိုကျယ်စေ၍ သူတို့နှင့် ဝန်ခံပြီး သူတို့
ခုတင်ကိုလည်း တပ်မက်၍၊ နေရာအရပ်ကိုရှာ
၉ လေပြီ။- ဆီမွှေးပါလျက်၊ ရှင်ဘုရင်ထံသို့သွား
ပြီ၊ နံ့သာမျိုးများကို သုံးပြီ၊ တမန်တို့ကို ဝေး
သော အရပ်သို့ စေလွှတ်၍၊ မရဏာ နိုင်ငံ တိုင်
၁၀ အောင်မိမိကိုမိမိနှိမ့်ချပြီ။- ဝေးစွာခရီးသွား၍
ပင်ပန်းသော်လည်း မိတ်မပျက်၊ ကြိုးစား၍ အ
သက်လွတ်သောကြောင့် အားလျော့ ခြင်းမရှိ။-
၁၁ သင်သည်သန္တာပျက် သည်တိုင်အောင်ရှင်၊ ငါကို
မေ့လျော့၍ သတိမပြုဘဲနေသည့်တိုင်အောင်ရှင်၊
အဘယ်သူကိုကြောက်ရွံ့သနည်း၊ ငါသည်ရှေး
ကာလမှစ၍ တိတ်ဆိတ်စွာ နေ သောကြောင့်၊
သင် သည် ငါကို မကြောက်ဘဲ နေ သည် မဟုတ်
၁၂ လော။- သင်၏ကုသိုလ်နှင့်၊ သင်ပြုသော အမှုတို့
၁၃ ကို ငါဖော်ပြ မည်။- ထိုသို့ သော အမှုသည်အ
ကျိုး ကို မပေးနိုင်၊ သင်သည်အော်ဟစ်သောအ
ခါ၊ သင်၏ အလုံးအရင်း တို့သည် ကယ်နှုတ်ကြ
စေ၊ လေသည်သူတို့ကိုတိုက်၍သွားလိမ့်မည်၊ လေ
တမှုတ်နှင့်လွင့်ကြလိမ့်မည်၊ ငါ့ကိုကိုးစားသော
သူမူကား၊ ပြည်တော်ကို ပိုင်၍၊ ငါ၏ သန့်ရှင်း
သောတောင်ကိုအမွေခံရလိမ့်မည်။
၁၄ ထိုအခါမြေကိုဖို့ကြ၊ မြေကိုဖို့ကြ၊ လမ်းကိုပြင်
ကြ၊ ငါ့လူတို့၏လမ်းခရီး၌ အဆီးအတားမရှိစေ
၁၅ နှင့်ဟု ငါပြောဆိုရ၏။- အကြောင်းမူကား၊ သန့်
ရှင်းခြင်းဟု နာမရှိတော် မူထသော၊ အနန္တကာ
လတည်းဟူသောဘုံမိတ်မှန်၌စံတော်မူထသော၊
အထွဋ်အမြတ်ဖြစ်တော်မူသောဘုရားမိန့်တော်
မူသည်ကား၊ ငါသည်မြင့်မြတ်သန့်ရှင်းသောအ
ရပ်၌နေ၏၊ စိတ်နှိမ့်ချသောသူနှင့်၊ နှစ်လုံးကြေကွဲ
သောသူတို့၏စိတ်ဝိညာဉ် အသက်ရှင်စေခြင်းငှါ၊
ကြေကွဲနှိမ့်ချသော စိတ်သဘောရှိသော သူတို့၌
၁၆ လည်း ငါနေ၏။- ငါသည် အစဉ်မပြတ်တရား
တွေ့မည်မဟုတ်၊ အစဉ်မပြတ်အမျက်ထွက်မည်
မဟုတ်၊ ထိုသို့ထုတ်လျှင်၊ အသက်သည်ငါ့ရှေ့မှာ
မောတ်၍၊ ငါဖန်ဆင်းသောဝိညာဉ်သည်မှုတ်
၁၇ မိခြင်းသို့ရောက်လိမ့်မည်။- လူ၏လောဘအပြစ်

ကျူးခြင်းအပြစ်ကြောင့်၊ငါသည်အမျက်ထွက်
၍ဒဏ်ခတ်လေ၏၊အမျက်ထွက်၍မျက်နှာကို
လွှဲလေ၏၊ သူသည်လည်း၊ မိမိအလိုရှိရာလမ်း
၁၈ သို့လွှဲသွားလေ၏။- သူ၏အကျင့်စရိုက်တို့ကိုငါ
မြင်ပြီ၊သူကိုအနာပျောက်စေ၍ထမ်းပြဦးမည်၊
သူကိုငှင်၊ သူနှင့်အတူစိတ်ညှိုးငယ်သော သူတို့
၁၉ ကိုငှင်ချမ်းသာပေးဦးမည်။- ငါသည်နှုတ်ခမ်း
အသီးကိုဖန်ဆင်း၏၊ ဝေးသောသူ၌ငှင်၊ နီး
သောသူ၌ငှင်ငြိမ်သက်ခြင်းဖြစ်စေ၊ ငြိမ်သက်
ခြင်းဖြစ်စေ၊ သူ၏အနာကို ငါပျောက်စေမည်ဟု
၂၀ ထာဝရဘုရားမိန့်တော်မူ၏။- မတရားသောသူ
တို့မူကား၊မငြိမ်နိုင်ဘဲလှုပ်ရှား၍၊ရွံ့နှင့်အမှိုက်
၂၁ ကိုပထ်သောပင်လယ်ရေနှင့်တူကြ၏။-မတရား
သောသူတို့၌ငြိမ်သက်ခြင်းမရှိဟု၊ ငါ၏ဘုရား
သခင်မိန့်တော်မူ၏။

၅၈

၁ အသံမလျှော့ဘဲကျွေးကြော်လော့၊ တံပိုးသံ
ကဲ့သို့အသံကိုလွှင့်၍၊ ယာကုပ်အမျိုးသား ဖြစ်
သောငါ၏လူတို့အား၊ သူတို့ဒုစရိုက်အပြစ်ကို
၂ ဖော်ပြလော့။- သူတို့သည် တရားကျင့်သောအ
မျိုး၊ မိမိဘုရားသခင်၏ပညတ်တို့ကိုမစွန့်သော
အမျိုးကဲ့သို့၊နေ့တိုင်းငါ့ကိုရှာ၍ငါ၏တရားလမ်း
၌ မွေ့လျော်ကြသည် ဟုကား။ ဖြောင့်မတ်စွာ
တရားစီရင်ချက်တို့ကို ငါ့ထံမှာ အစည်မေးမြန်း
၍၊ဘုရားသခင်ထံသို့ချဉ်းကပ်ရာ၌မွေ့လျော်ကြ
၃ သည်တကား။- အကျွန်ုပ်တို့သည်အစာရှောင်
ခြင်း အကျင့်ကို ကျင့် သော အခါ၊ ကိုယ် တော်
သည် အဘယ်ကြောင့် မြင်တော် မ မူ သနည်း။
အကျွန်ုပ် တို့ သည် ငြိုးငြီ စွာ ကျင့် သော အခါ၊
ကိုယ်တော်သည် အဘယ်ကြောင့်သိမှတ်တော်
မမူသနည်းဟု ဆို သော်၊ သင် တို့ သည် အစာ
ရှောင်သောနေ့၌ ကိုယ်တိုင်ပျော်မွေ့၍၊ ကျွန်တို့
၄ ကိုပင်ပန်းစွာလုပ်စေကြ၏။- သင်တို့သည်ငြင်း
ခုံ ရန်တွေ့လျက်၊ အဓမ္မထက်ဆုပ်နှင့် ထိုးလျက်
အစာရှောင်ကြ၏၊မြင့်သောအရပ်၌မိမိတို့အသံ
ကို ကြားစေခြင်း ငှါ၊ ယခု ကာလ အခါ အစာ
၅ ရှောင်ကြသည်မဟုတ်။- ငါနှစ်သက်သောအ
စာရှောင်ခြင်းသည် ထိုသို့သောလက္ခဏာရှိသ
လော၊ လူသည်တရက်တွင်ငြိုးငြီစွာကျင့်ခြင်း၊
ကိုင်းပင်ကဲ့သို့ဦးချခြင်း၊ ဖိနပ်ရာဘိုလျှော်တေ
နှင့် ပြာကိုခင်း နှင်း ထက္ခဏာရှိလျှင်၊ အစာ
ရှောင်ခြင်း ဟူ၍ ငှင်၊ ထာဝရဘုရား နှစ် သက်
တော် မူသော ရေ့ရဏီ ဟူ၍ ငှင် ခေါ်ဖွယ် အစ် သ
၆ လော။- ငါနှစ်သက်သော အစာရှောင်ခြင်းဟူ
မူကား၊ မတရားသောအချည်အနှောင်ကို ဖြေ
ခြင်း၊ လေးသော ဝန်ကို ချခြင်း၊ ညှဉ်းဆဲခံရ
သောသူတို့ကိုလွှတ်ခြင်း၊ထမ်းပိုးရှိသမျှကိုချိုး
၇ ခြင်းမဟုတ်လော။- မွတ်သိပ်သောသူကို အစာ
ကျွေးခြင်း၊နေရာမရှိ၊ဆင်းရဲသောသူတို့ကိုကိုယ်
အိမ်သို့ဆောင်ခြင်း၊ အဝတ်မရှိသောသူကို မြင်
လျှင်၊ အဝတ်ကိုပေးခြင်း၊ ကိုယ်အသားကို မ
ရှောင်ဘဲနေခြင်းမဟုတ်လော။
၈ သို့ပြုလျှင် သင်၏အလင်းသည်မိုဃ်းသောက်
သောအလင်းကဲ့သို့ပေါ်ထွန်း၍၊ အလျှင်အမြန်
ကျန်းမာခြင်းသို့ရောက်လိမ့်မည်၊ သင်၏ဖြောင့်
မတ်ခြင်းပါရမီသည်သင့်ရှေ့၌သွား၍၊ ထာဝရ
ဘုရား၏ဘုန်းတော်သည်နောက်၌ လုံချုံစေလိမ့်
၉ မည်။-သို့ပြုလျှင်၊ထာဝရဘုရားသည်၊သင်ခေါ်
သောအခါထူးတော်မူလိမ့်မည်။အော်ဟစ်သော
အခါ ငါရှိသည်ဟု မိန့်တော် မူလိမ့်မည်။ ထင်
သည်သင်၏အထဲကထမ်းပိုးကိုငှင်၊လက်ညှိုး
ထိုးခြင်းကိုငှင်၊ကဲ့ရဲ့သောစကားကိုငှင်ပယ်ရှား
၍၊- မွတ်သိပ်သောသူနှင့်ဆင်းရဲခံရသောသူကို
သနားသော စိတ်နှင့် ချမ်းသာ ပေးလျှင်၊ မှောင်း
ထင်းသော အရာမှာ သင်၏အလင်းသည် ပေါ်
ထွန်း၍၊ သင်၏ မှောင်မိုက်သည် မွန်းတည့် အ
၁၀ လင်းကဲ့သို့ဖြစ်လိမ့်မည်။- ထာဝရဘုရားသည်
သင့်ကို အစဉ်ပဲ့ပျင်တော်မူမည်၊ အစာခေါင်း
ပါးသည်ကာလ၌ဝစွာကျွေး၍၊ သင်၏အရိုးတို့
ကို ခိုင်ခံ့စေတော်မူမည်၊ သင်သည် ရေလောင်း
သောဥယည်ကဲ့သို့ငှင်၊ ရေမပြတ်နိုင်သောစမ်း
၁၁ ရေတွင်းကဲ့သို့ငှင် ဖြစ်လိမ့်မည်။- သင်၏အမျိုး
အနွယ်သည်ရှေးပြိုပျက်ရာတို့ကိုပြုပြင်ကြလိမ့်
မည်၊ ရှေးကာလ၌တည်ဘူးသောတိုက်မြစ်ရှား
အပေါ်မှာ ထပ်ဆင့် ၍ တည် ဆောက် ကြ လိမ့်
မည်၊ သင်သည်လည်း၊ပြိုပျက်သောမြို့ရိုးကိုပြု
ပြင်သောသူ၊လူနေရာလမ်းများကိုပြင်ဆင်သော
၁၂ သူ ဟူ၍ သမုတ်ခြင်းကို ခံရ လိမ့်မည်။- သင်
သည် ဥပုသ် နေ့ ကို မရှုတ်ချ၊ ငါ သန့်ရှင်းသော
နေ့မှာကိုယ် အလိုသို့မလိုက်၊ ဥပုသ်နေ့ကို မွေ့
လျော်ရာနေ့၊ ထာဝရဘုရားအဖို့ သန့်ရှင်းသော
နေ့၊ ရိုသေဖွယ်သော နေ့ဟူ၍ ခေါ်ဆဖြင့်ကိုယ်
အမှုကိုမပြု၊ကိုယ်အလိုသို့မလိုက်၊ ကိုယ်စကား
၁၃ ကို မပြောဘဲ နေ၍ ထိုနေ့ကို ရိုသေလျှင်။- သင်

သည်ထာဝရဘုရား၌မွေ့လျော်ရလိမ့်မည်။ မြေ
ကြီးပေါ်မှာမြင့်သော အရပ်တို့ကို ငါစီးစေ၍၊
သင့်အဘယာကုပ်၏အမွေဥစ္စာနှင့် ငါကျွေးမည်
ဟု၊ ထာဝရဘုရား၏ နှုတ်တော်ထွက် အမိန့်
တော်ရှိ၏။

## ၅၉

၁ ကြည့်ရှုလော့။ ထာဝရဘုရားသည်မကယ်မ
တင်နိုင်အောင် လက်တော်တိုသည်မဟုတ်။ မ
ကြားနိုင်အောင် နားတော်ထိုင်းသည် မဟုတ်။—
၂ သင်တို့ဒုစရိုက်သည် သင်တို့ကိုဘုရားသခင်နှင့်
ကွာစေပြီ။ ကြားတော်မမူစေခြင်းငှါ၊ သင်တို့အ
၃ ပြစ်သည် မျက်နှာတော်ကို ဖုံးစေပြီ။— သင်တို့
လက်သည် အသွေးနှင့်၎င်း၊ လက်ချောင်းတို့
သည်ဒုစရိုက်နှင့်၎င်းညစ်ညူးကြ၏။သင်တို့သ၏
နှုတ်ခမ်းနှင့်လျှာအားဖြင့် မုသာစကား၊ အဓမ္မ
၄ စကားကို ပြောတတ်ကြ၏။— တရားကို အထယ်
သူမျှမရှာ၊ သစ္စာကို အထယ် သူမျှ မစောင့်၊ အ
နတ္တကိုကိုးစား၍ မုသာစကားကို ပြောတတ်ကြ
၏။ မကောင်းသောအကြံကို ပဋိသန္ဓေယူ၍၊ အ
၅ ဓမ္မအမှုကို ဖွားကြ၏။— သူတို့သည်မြွေဆိုး၏အ
ဥတို့ကိုဝပ်၍ ပေါက်စေကြ၏။ ပင့်ကူအမျှင်ကို
လည်း ရက်ကြ၏။ သူတို့ ဥများကို စားသော သူ
သည်သေတတ်၏။ အဥကိုခွဲလျှင်မြွေဆိုးပေါက်
၆ တတ်၏။—သူတို့ရက်သောအမျှင်ဖြင့်အဝတ်ကို
မလုပ်ရ။ ကိုယ်အကျင့်နှင့် ကိုယ်ကိုမဖုံးရကြ။
သူတို့ပြုသောအမှုသည် အဓမ္မအမှုဖြစ်၏။ သူတို့
၇ လက်၌ ကြမ်းတမ်းသော အမှုရှိ၏။— သူတို့ခြေ
သည် အဓမ္မအမှုကို ပြုခြင်းငှါ ပြေးတတ်၏။ အ
ပြစ်မရှိသောသူ၏ အသက်ကို သတ်ခြင်းငှါ လျှင်
မြန်၏။ သူတို့အကြံသည် အဓမ္မအကြံဖြစ်၍၊ သူ
တို့သွားရာလမ်း၌ ပျက်စီးခြင်းနှင့် ဒုက္ခဆင်းရဲ
၈ ခြင်းရှိ၏။— ချမ်းသာ လမ်းကို သူတို့မသိကြ။ သူ
တို့ခရီးသွားရာတွင်တရားမပါ။မိမိတို့ သွားစရာ
အို့ ကောက်သော လမ်းတို့ကို ဖွင့်ဆင်ကြပြီ။
လိုက်သွားသော သူမည်သည်ကား၊ ချမ်းသာ
ကိုမသိရ။
၉ ထိုကြောင့်၊ဖြောင့်မတ်စွာစီရင်ခြင်းသည်ငါ
တို့နှင့်ဝေး၏။ တရားသည်လည်း ငါတို့ကိုမမှီ။
အလင်းကိုမျှော်လင့်သောအခါ ရှင်းလင်းခြင်း
မရှိ။ရောင်ခြည်ကိုမျှော်လင့်သော်လည်း၊ မှောင်
၁၀ မိုက်၌ သွားလာရကြ၏။— မမြင်နိုင်သော သူကဲ့
သို့နံရံကို စမ်းသပ်ရကြ၏။ မျက်စိမရှိသော သူ
ကဲ့သို့စမ်းသပ်ရကြ၏။ ညအချိန်၌ဖြစ်သကဲ့သို့
မွန်းတည့်အချိန်၌ ထိမိ၍လဲကြ၏။ စည်းစိမ်ကို
၁၁ ခံစားလျက်နေသောသူကဲ့သို့ဖြစ်ကြ၏။— ငါတို့
ရှိသမျှသည် ဝံကဲ့သို့ ဖြည်တမ်း၍၊ ငှက်ကဲ့သို့
ညည်းညူကြ၏။ တရားစီရင်ခြင်းကို မျှော်လင့်
၍မရကြ။ ကယ်တင်ခြင်းကျေးဇူးကို မျှော်လင့်
၁၂ သော်လည်း၊ ငါတို့နှင့်ဝေး၏။— ငါတို့အပြစ်
တို့သည်ရှေ့တော်၌ များပြားကြ၏။ ဒုစရိုက်တို့
သည်ငါတို့တစ်ဖက်၌သက်သေခံကြ၏။ကိုယ်အ
ပြစ်တို့သည် ကိုယ်၌ စွဲကပ်လျက်၊ ကိုယ်ပြုမိ
၁၃ သော ဒုစရိုက်များကို ကိုယ်သိကြ၏။— ထာဝရ
ဘုရားကိုပြစ်မှားခြင်း၊ငြင်းပယ်ခြင်းကိုပြု၍၊ငါ
တို့၏ဘုရားသခင်ကို စွန့်ကြပြီ။ ညှဉ်းဆဲသော
စကား၊ ပုန်ကန်သော စကားကို ပြောခြင်း၊ မ
ဟုတ်မမှန်သော စကားကိုဆောင်း၍၊ စိတ်
၁၄ နှလုံး ထဲက မြွက်ဆိုခြင်းကို ပြုကြပြီ။— ဖြောင့်
မတ်စွာ စီရင်ခြင်းသည် ဆုတ်သွားပြီ။ တရား
သည် အဝေးကရပ်၍နေ၏။ သစ္စာသည်လမ်း၌
၁၅ လဲပြီ။ဖြောင့်သောသဘောမဝင်နိုင်ရာ။— သစ္စာ
သည်ပျက်နှံပြီ။ ဒုစရိုက်ကိုရှောင်သောသူသည်
လုယူခြင်းကို ခံရ၏။ ထိုအမှုကို ထာဝရဘုရား
သည်မြင်လျှင်၊တရားမရှိသောကြောင့်စိုးရိမ်တော်
၁၆ မူ၏။— လူတယောက်မျှ မရှိသည်ကို မြင်တော်မူ
၏။ တောင်းပန်သောသူ တယောက်မျှ မရှိသည်
ကိုအံ့ဩတော်မူ၏။ထိုကြောင့်၊မိမိလက်တော်
သည် မိမိအဖို့ ကယ်တင်ခြင်း အမှုကို ပြု၍၊ မိမိ
ဖြောင့်မတ်ခြင်းတရားသည် မိမိကိုထောက်ပင့်
၁၇ ၏။— ဖြောင့်မတ်ခြင်းတရားတည်းဟူသော ရင်
ကြပ်ကို ဝတ်ဆင်၍၊ ကယ်တင်ခြင်းတည်းဟူ
သော သံခမောက် လုံးကို ဆောင်းတော်မူ၏။ အ
ပြစ်ပေးခြင်း အဝတ်ကို၎င်း၊ စိတ်အားကြီးခြင်း
ဝတ်လုံကို၎င်း ယူတင် ဝတ်ဆောင်တော်မူ၏။—
၁၈ သူတို့အကျင့်အတိုင်းအကျိုးအပြစ်ကိုဆပ်ပေး
တော်မူမည်။ ရန်ဘက်ပြုသော သူတို့အား အ
မျက်တော်ကို၎င်း၊ ရန်သူတို့ခံထိုက်သည် အ
တိုင်းအပြစ်ကို၎င်း၊ တကျွန်းတနိုင်ငံ သားတို့
အားအကျိုးအပြစ်ကို၎င်းဆပ်ပေးတော်မူမည်။—
၁၉ သို့ဖြစ်၍၊ အနောက်မျက်နှာ သားတို့နှင့်၊ နေ
ထွက်ရာ အရပ်သားတို့သည် ထာဝရဘုရား၏
နာမတော်နှင့် ဘုန်းတော်ကိုရိုသေကြလိမ့်မည်။
ရန်သူသည်ရေဖွန်းငိုးသကဲ့သို့ဝင်သောအခါ၊
ထာဝရဘုရား၏ ဝိညာဉ်တော်သည် ဆီး၊ တား

၂၀ တော်မူမည်။ ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ရွေးနှုတ်သောသခင်သည် ဇိအုန်တောင်
ပေါ်သို့ကြွ၍၊ မတရားသောအမှု၌ ဖြုံသောယာ
၂၁ ကုပ် အမျိုး သား တို့ရှိရာသို့ ရောက်တတ်၏။- ငါ
ထိုသူနှင့်ကိုယ်တိုင်ပေးသောပဋိညာဉ်တရားဟူမူ
ကား၊ သင်၏ အပေါ်မှာ ကျိန်း ဝပ် သော ငါ၏
ဝိညာဉ်နှင့် သင်၏ နှုတ်၌ ငါ ထားသော စကား
သည်၊ ယခုမှစ၍ ကာလ အစဉ် အဆက် သင်၏
နှုတ်၊ သင့်အမျိုး၊ အနွယ်၏နှုတ်နှင့်၊ သင့်အမျိုး၊
အနွယ်၏ အမျိုး၊ အနွယ်၏ နှုတ်ထဲက မထွက်မ
ပျောက်ရဟု၊ ထာဝရဘုရားမိန့်တော်မူ၏။

၆၀

၁ သင်ထ လော့၊ လင်း လော့၊ သင်၏ အလင်း
ရောက် လာ ပြီ၊ ထာဝရ ဘုရား၏ ဘုန်းတော်
သည် သင်၏ အပေါ်မှာ ပေါ်ထွန်းထွက် ပြီ။-
၂ ကြည့်ရှုလော့၊ မှောင်မိုက်သည် မြေကြီးကိုဖုံး
အုပ်လိမ့်မည်၊ ထူထပ်သောမှောင်မိုက်သည်လူ
များကိုဖုံးအုပ်လိမ့်မည်။ သို့သော်လည်း၊ သင်
၏အပေါ်မှာထာဝရဘုရားသည်ပေါ်ထွန်းတော်
မူ၍၊ ဘုန်းတော်သည်သင်၏အပေါ်မှာထင်ရှား
၃ ထွက်ရှိလိမ့်မည်။- တပါးအမျိုးသားတို့သည်
သင်၏အလင်းသို့၎င်း၊ ရှင်ဘုရင်တို့သည် သင်၌
ပေါ်ထွန်းခြင်းအရောင်သို့၎င်းလာကြလိမ့်မည်။-
၄ အရပ်ရပ်သို့ မျှော်ကြည့်လော့၊ စည်းဝေးသော
သူတို့သည်စုဝေး၍သင့်ထံသို့လာကြ၏။ သင်၏
သားတို့သည်အဝေးကလာ၍၊ သင်၏အနား
၅ မှာ ပွေ့စေခြင်းကိုခံကြလိမ့်မည်။- ထိုအခါသင်
သည် ကြောက်ရွံ့ခြင်းနှင့် ရွှင်လန်းခြင်းရှိလိမ့်
မည်။ နှလုံးတုန်လှုပ်၍ဝမ်းမြောက်လိမ့်မည်။
အကြောင်းမူကား၊ သမုဒ္ဒရာ၏ ကြွယ်ဝ ခြင်း
သည် သင့်ထက်သို့ ပြောင်းလဲ၍၊ တပါးအမျိုး
သားတို့ ၏ စည်းစိမ်သည် သင့်လက်သို့ ရောက်
၆ လိမ့်မည်။- ကုလားအုတ် များနှင့် မိဒျန်ပြည်၊ ဧ
ဖာပြည်မှ ဖြစ်သော ကုလားအုတ် မျိုး တို့သည်
သင့်ကို နှံ့ပြားကြလိမ့်မည်။ ရှေဘပြည်သားအ
ပေါင်းတို့သည် လာကြလိမ့်မည်။ ရွှေနှင့် လော
မန်ကို ဆောင်ခဲ့၍၊ ထာဝရဘုရား၏ ဂုဏ်ကျေး
ဇူးတော်တို့ကို ဝမ်းမြောက်စွာ ချီးမွမ်းကြလိမ့်
၇ မည်။- ကေဒါပြည် ၏ သိုးစု အပေါင်းတို့သည်
သင့်ထံမှာစုဝေးကြလိမ့်မည်။ နဗာယုတ်ပြည်၏
သိုးထီးတို့သည်သင်၏အမှုကိုဆောင်ရွက်၍၊ နှစ်
သက်ဖွယ်သော ယဇ်ကောင်အဖြစ်နှင့် ငါ၏ယဇ်ပလ္လင်
ပေါ်သို့ တက်ကြလိမ့်မည်။ ဘုန်းထင်ရှားရာ
ဗိမာန်ကို ငါသည်သာ၍ ဘုန်းပွင့်စေမည်။-
၈ မိုဃ်းတိမ်ကဲ့သို့၎င်း၊ ခိုတို့သည်အိမ်သို့ ပျံသောကြိုး
များ ကဲ့ သို့၎င်း ပျံလာ သော ဤသူတို့ကား အ
၉ ဘယ်သူဖြစ်ကြလိမ့်မည်နည်း။- အကယ်စင်စစ်
သင်၏ ဘုရားသခင်ထာဝရဘုရား ၏ နာမတော်
ကြောင့်၎င်း၊ သင်၏ ဘုန်းကို ပွင့်စေသော၊ ဣသ
ရေလအမျိုး၏သန့်ရှင်းသောဘုရားကြောင့်၎င်း၊
သင်၏ သားတို့နှင့်တကွ သူတို့ရွှေငွေများကို အ
ဝေးမှ ဆောင်ခဲ့ ခြင်းငှါ၊ တကျွန်းတနိုင်ငံသား
တို့ သည် ငါ့ကို စောင့်ရ၍၊ တာရှိ သင်္ဘောတို့
၁၀ သည် ရှေ့ဦး ပြုကြ လိမ့်မည်။- တပါးအမျိုးသို့
သည် သင်၏ မြို့ရိုး ကို တည်ကြ လိမ့်မည်။ ရှင်
ဘုရင်တို့သည်လည်း သင့်ကိုပြုစုကြ လိမ့်မည်။
အကြောင်းမူကား၊ ငါသည်အမျက်ထွက်၍သင့်
ကို ဒဏ်ခတ်သော်လည်း၊ ကျေနပ်စိတ်နှင့် သ
၁၁ နားပြီးမည်။-တပါးအမျိုးသားတို့၏စည်းစိမ်ကို
သင့်ထံသို့ ဆောင်ခဲ့၍၊ သူတို့ ၏ ရှင်ဘုရင် တို့ကို
ထည့်ပို့သမည်အကြောင်း၊ သင်၏ တံခါးတို့ကို
နေ့ညဉ့်မပိတ်ဘဲ အစဉ်ဖွင့်ထားရလိမ့်မည်။-
၁၂ အကြင်ပြည်နှင့် အကြင်နိုင်ငံသည် သင်၏ အမှု
ကိုမဆောင်၊ ထိုပြည်နှင့်ထိုနိုင်ငံသည်ပျက်စီးရ
လိမ့်မည်။ ထိုသို့သောတိုင်းနိုင်ငံတို့သည် သုတ်
၁၃ သင်ပယ်ရှင်းခြင်းကိုအမှန်ခံရကြလိမ့်မည်။-ငါ
၏သန့်ရှင်းရာဌာနကိုတင့်တယ်စေခြင်းငှါ၊ လေ
ဗနုန်ဘုန်းနှင့်တကွထင်းရှူးပင်၊ ထင်းဗရပင်၊ ထာ
ရှုရပင်တို့သည် သင့်ထံသို့တညီတညွတ်တည်း
ရောက်လာကြလိမ့်မည်။ ငါသည် ငါ၏ခြေတင်
၁၄ ရာအရပ်ကိုဘုန်းပွင့်စေမည်။- သင့်ကိုညှဉ်းဆဲ
သောသူတို့၏သားတို့သည်သင့်ထံသို့လာ၍ဦးချ
ကြလိမ့်မည်။ သင့်ကို မထီမဲ့မြင် ပြုသော သူ အ
ပေါင်းတို့သည် သင်၏ခြေရင်း၌ ဝပ်နေကြလိမ့်
မည်။ ထာဝရဘုရား၏မြို့၊ ဣသရေလ အမျိုး၏
သန့်ရှင်းသော ဘုရား၏ ဇိအုန်မြို့ဟူ၍၊ သင့်ကို
သမုတ်ကြလိမ့်မည်။
၁၅ သင့်ကို အထယ်သူမျှရှောက်၍ မသွားရမည့်
အကြောင်း၊ သူတပါးတို့သည်သင့်ကိုစွန့်ပစ်၍
မုန်းကြသည်အတွက်၊ ငါသည်သင့်ကိုထာဝရအ
ထွဋ်အမြတ်ဖြစ်စေမည်။ လူမျိုး၊ အစဉ်အဆက်
ဝမ်းမြောက်စရာအကြောင်းလည်းဖြစ်စေမည်။-
၁၆ သင်သည် တပါးအမျိုးသားတို့၏နို့ကို မှီဝဲလိမ့်
မည်။ ရှင်ဘုရင်တို့၏ အမြတ်ကိုလည်း မှီဝဲလိမ့်

မည်။ ငါထာဝရဘုရားသည်၊ သင့်ကိုကယ်တင်သောသူ၊ ယာကုပ် အမျိုး၌ တန်ခိုး ကြီး သော ဘုရား သည်၊ သင့် ကို ရွေး နှုတ် သော သူ ဖြစ်
၁၇ ကြောင်းကိုသင်သည်သိရလိမ့်မည်။- ကြေးဝါအရာ၌ရွှေကိုငင်၊သံအရာ၌ငွေကိုငင်၊သစ်သားအရာ၌ကြေးဝါကိုငင်၊ကျောက်အရာ၌သံကိုငင် ငါဆောင်ခဲ့မည်။ သင်၏အရာရှိတို့ကို ငြိမ်သက်သောသဘော၊အစွန်ခံတို့ကိုဖြောင့်မတ်းသောသ
၁၈ ဘောနှင့် ပြည့်စုံစေမည်။- သင်၏ပြည်၌ အနိုင်အထက်ပြုခြင်းအသံကိုနောက်တဖန်မကြားရ။ သင်၏နယ်အတွင်းတွင် လုယူ ဖျက်ဆီးခြင်း မရှိရ။ သင်၏မြို့ရိုးကိုကယ်တင်ခြင်းဟူ၍၎င်း၊ မြို့တံခါး တို့ကို ချီးမွမ်းခြင်းဟူ၍ ၎င် သမုတ်ရလိမ့်
၁၉ မည်။- နောက်တဖန်နေ့အချိန်၌ သင်၏အလင်းသည်နေပေးသောအလင်းမဟုတ်၊ညည့်အချိန်၌လည်း၊ လအရောင်သည်သင့်ကိုမလင်းစေရ။ အကြောင်းမူကား၊ ထာဝရဘုရား သည် သင်၌ ထာဝရအလင်း၊ သင်၏ဘုရားသခင်သည် သင်
၂၀ ၏ဘုန်းအသရေဖြစ်တော်မူလိမ့်မည်။- နောက် တဖန် သင်၏ နေ သည်မဝင်ရ၊ သင်၏လသည် ထည်းမဆုတ်ရ။ ထာဝရဘုရားသည်သင်၌ထာဝရအလင်းဖြစ်းတော်မူ၍၊ မိတ်မသာညည်းတွား
၂၀ ရာ ကာလ ကုန်လေပြီ။- သင်၏ လူအပေါင်းတို့သည်ဖြောင့်မတ်၍၊ ပြည်းတော်ကို အစဉ်အမြဲ အမွေခံသဖြင့်၊ ငါ၏ဘုန်းပွင့်စေခြင်းငှါ၊ ကိုယ်တိုင်စိုက်၍ပြုစုသောပျိုးပင်ဖြစ်ရကြလိမ့်မည်။-
၂၂ သူငယ် တယောက် သည် လူ တထောင် ဖြစ်ရ လိမ့်မည်။ အားနည်းသောသူတယောက်သည် အားကြီး သော လူ မျိုး ဖြစ်ရ လိမ့်မည်။ ငါထာဝရဘုရား သည် အချိန် ရောက်လျှင် ထို အမှုကို နှိုးဆော်မည်။

၆၁

၁ ထာဝရဘုရား၏ဝိညာဉ်တော်သည် ငါ့အပေါ်မှာတည်တော်မူ၏။ အကြောင်းမူကား၊ဆင်းရဲသားတို့အား၊ ဝမ်းမြောက်စရာသိတင်းကိုကြားပြောစေခြင်းငှါ၊ ငါ့ကို ဘိသိတ် ပေးတော် မူပြီ။ နှစ်လုံး ကြေကွဲသော သူတို့ ၏ အနာကို စည်းစေခြင်းငှါ၎င်း၊ဖမ်းသွားချုပ်ထားလျက်ရှိသောသူတို့အား၊ လွှတ်ခြင်း အကြောင်းနှင့်၊ အကျဉ်းခံလျက်ရှိသောသူတို့အား ထောင်တံခါး ဖွင့်ခြင်းအကြောင်းကိုပြစေခြင်းငှါ၎င်း၊- ထာဝရဘုရား၏မင်္ဂလာနှစ်နှင့်၊ ငါတို့ဘုရားသခင် အပြစ်ပေးတော်မူရာနေ့ရက် ကာလကို ကြားပြောစေခြင်းငှါ၎င်း၊ စိတ်မသာညည်းတွားသော သူတို့အား
၃ နှစ်သိမ့်စေခြင်းငှါ၎င်း၊- စိတ်မသာ ညည်းတွားသော ဇိအုန်မြို့သားတို့အမွှီးစီရင်၍၊ ပြာအရာ၌ပေါင်းသရဖူ၊ ဝမ်းနည်းခြင်းအရာ၌ဝမ်းမြောက်ခြင်းဆီ၊ ညှိုးငယ်သော စိတ်သဘောအရာ၌ ချီးမွမ်းခြင်း အဝတ်တန်ဆာကို သူတို့အား ပေးစေခြင်းငှါ၎င်း၊ ငါ့ကိုစေလွှတ်တော် မူပြီ။ ထို သူ တို့သည်ဖြောင့်မတ်ခြင်းသပိတ်ပင်၊ ဘုန်းအသရေတော်ဘို့ ထာဝရဘုရားစိုက်ပျိုးတော်မူသောအ
၄ ပင်ဟူ၍သမုတ်ခြင်းကိုခံရကြလိမ့်မည်။- ရှေးဖြိုဖျက်ရာတို့ကိုပြုပြင်ကြလိမ့်မည်။ ရှေးကာလ၌ သုတ်သင် ပယ်ရှင်းရာ တို့ကို တည် ဆောက် ကြလိမ့်မည်။ ဆိတ်ညံသောမြို့ရာ၊ အစဉ်အဆက်
၅ စွန့်ပြစ်ရာအရပ်တို့ကိုပြုစုကြလိမ့်မည်။-တပါးအမျိုးသားတို့သည်ရပ်လျက်၊သင်တို့သိုးစုများကိုထိန်းကျောင်းကြလိမ့်မည်။ တကျွန်းတနိုင်ငံသားတို့သည် သင်တို့အဖို့လယ်လုပ်၍၊ စပျစ်ဥ
၆ ယျာဉ်ကိုလည်းပြုစုကြလိမ့်မည်။-သင်တို့မူကား၊ ထာဝရဘုရား၏ ယဇ်ပုရောဟိတ် ဟူ၍၎င်း၊ ငါတို့ ဘုရားသခင် ၏ အမှု တော်ထမ်းဟူ၍၎င် အမည်ခြင်းကိုခံရကြလိမ့်မည်။ တပါး အမျိုးသားတို့၏စည်းစိမ်ကိုစား၍၊ သူတို့၏ ဘုန်းအသရေ၌
၇ ဝါကြွား ဝမ်းမြောက်ကြလိမ့်မည်။- သင်တို့အရှက်ကွဲခြင်းအရာ၌ နှစ်ဆသောအကျိုးကို ခံရ၍၊ အသရေပျက်ခြင်းအရာ၌လည်း၊ သူတို့အဖို့ကိုခံစားလျက် ဝမ်းမြောက်ကြလိမ့်မည်။ သူတို့ မြေ၌ နှစ်ဆသောအဖို့ကို အမွေခံ ရ၍၊ ထာဝရ
၈ ဝမ်းမြောက်ခြင်းနှင့် ပြည့်စုံကြလိမ့်မည်။- အကြောင်းမူကား၊ ငါထာဝရဘုရားသည် တရားသဖြင့်စီရင်ခြင်းကိုနှစ်သက်၏။ လုယူခြင်းအမှုနှင့် အဓမ္မအမှုကိုမုန်း၏။ သစ္စာအတိုင်း သူတို့အားအကျိုးကိုပေးမည်။ သူတို့နှင့် ထာဝရပဋိ
၉ ညာဉ်ကို ဖွဲ့မည်။- သူတို့ အမျိုး အနွယ် သားစည်မြေးဆက်တို့သည် တပါးအမျိုးသားနေရာအရပ်ရပ်၌ကျော်စောကြလိမ့်မည်။ သူတို့သည် ထာဝရဘုရားကောင်းကြီးပေးတော်မူသောအမျိုးအနွယ်ဖြစ်ကြ၏ဟု၊သူတို့ကိုမြင်သောသူအပေါင်းတို့သည်ဝန်ခံကြလိမ့်မည်။
၁၀ ထာဝရဘုရားကြောင့် ငါသည် အလွန် ဝမ်းမြောက်၍၊ ငါ၏ ဘုရားသခင်ကြောင့် ငါဝိညာဉ်သည် ရွှင်လန်းမည်။ အကြောင်းမူကား၊ မင်္ဂလာ

ဆောင်လုလင်သည် ပေါင်းသရေဖူကိုဆောင်း၍သ
ကဲ့သို့၎င်း၊ မင်္ဂလာဆောင် သတို့သမီးသည် တန်
ဆာဆင်သကဲ့သို့၎င်း၊ကယ်တင်ခြင်းအဝတ်တန်
ဆာနှင့် ငါ့ကို ဝတ်ဆင် စေ၍၊ ဖြောင့် မတ် ခြင်း
၁၁ ဝတ်လုံနှင့် ခြုံတော်မူပြီ။- မြေကြီးသည်အပင်
ကိုပေါက်စေသကဲ့သို့၎င်း၊ လယ်ယာသည်မိမိ၌
စိုက်သော မျိုးစေ့ကို အညွန့် ထွက်စေ သကဲ့
သို့၎င်း၊ ထိုအတူ ထာဝရဘုရားသည် ခပ်သိမ်း
သောလူမျိုးရှေ့မှာ၊ ဖြောင့်မတ်ခြင်းနှင့် ချီးမွမ်း
ခြင်းကိုပေါ်ထွန်းစေတော်မူလိမ့်မည်။

## ၆၂

၁ ဇိအုန် မြို့ တည်း ဟူ သော ယေရုရှလင် မြို့၏
ဖြောင့်မတ်ခြင်းသည် ရောင်ခြည်ကဲ့သို့၎င်း၊ သူ၏
ကယ်တင်ခြင်းသည် ထွန်းတောက်သော ဆီမီး
ခွက်ကဲ့သို့၎င်း မထင်ရှားမှီတိုင်အောင်၊ ထိုမြို့အ
တွက် ငါသည် တိတ်ဆိတ်ငြိမ်သက်စွာမနေရ။-
၂ တပါးအမျိုးသားတို့သည်သင်၏ဖြောင့်မတ်ခြင်း
ကို၎င်း၊ ရှင်ဘုရင်အပေါင်းတို့သည်သင်၏ဘုန်း
အသရေကို ၎င်း မြင် ရ ကြ လိမ့် မည်။ ထာဝရ
ဘုရား၏ နှုတ်တော်ထွက် နာမသစ်ဖြင့် သင့်ကို
၃ ခေါ်ကြလိမ့်မည်။- သင်သည် ထာဝရဘုရား၏
လက် တော်၌ တင့် တယ် သော ဦး ရစ်၊ သင်၏
ဘုရားသခင် ကိုင်တော်မူသော မင်းမြောက်သရ
၄ ဖူဖြစ်လိမ့်မည်။- သင့်ကို စွန့်ပြစ်သောသူဟူ၍
၎င်း၊ သင်၏မြေကို လူဆိတ်ညံသောမြေဟူ၍၎င်း၊
နောက်တဖန် မခေါ်ရ။ သင်သည် ငါ နှစ်သက်
သောသူ၊ သင်၏မြေသည်ထက်ထပ်သောမြေဟူ
သောအမည်ကိုရလိမ့်မည်။ အကြောင်းမူကား၊
ထာဝရဘုရားသည် သင့်ကိုနှစ်သက်တော်မူ၏။
၅ သင်၏ မြေကိုထည်းလက်ထပ်ရလိမ့်မည်။- လု
လင်သည် အပျို ကညာ နှင့် ထက်ထပ် သကဲ့သို့၊
သင်၏သားတို့သည် သင်နှင့် လက်ထပ်ကြလိမ့်
မည်။ မင်္ဂလာဆောင်လုလင်သည် မင်္ဂလာဆောင်
သတို့သမီး၌ ဝမ်းမြောက်သကဲ့သို့၊ သင်၏ဘုရား
သခင်သည်သင်၌ဝမ်းမြောက်တော်မူလိမ့်မည်။
၆ အိုယေရုရှလင်မြို့၊ နေ့ညဉ့်မပြတ်တိတ်ဆိတ်
စွာမနေရသော လူစောင့် တို့ကို သင် ၏ မြို့ရိုးပေါ်
မှာငါထားပြီ။ ထာဝရဘုရားကိုအောက်မေ့စေ
၇ သောသူတို့၊ တိတ်ဆိတ်စွာမနေကြနှင့်။- ယေရု
ရှလင်မြို့ကိုအမြဲတည်တော်မမူ၊ မြေကြီးပေါ်မှာ
ချီးမွမ်းစရာ အကြောင်း ဖြစ်စေတော်မမူမှီတိုင်
၈ အောင်၊ ဘုရားသခင်ကိုမငြိမ်စေကြနှင့်။- ထာ
ဝရဘုရားက၊ သင်၏ရန်သူတို့ကို သင်၏စပါးနှင့်
နောက်တဖန် ငါမကျွေး။ သင်သည် ကြိုးစား၍
လုပ်သော စပျစ်ရည် ကို တပါး အမျိုး သား တို့
၉ သည်မသောက်ရကြ။- စပါးကိုရိတ်သောသူတို့
သည် ကိုယ်တိုင် စား၍၊ ထာဝရဘုရား ကို ချီး
မွမ်းကြလိမ့်မည်။ စပျစ်သီးကိုသိမ်းသောသူတို့
သည် ငါ၏သန့်ရှင်း၊ ရာဇဝင် တန်တိုင်းအတွင်း၌
စပျစ်ရည်ကို သောက်ကြ လိမ့်မည်ဟု၊ ထန်မိုး
ကြီးသောလက်ျာလက်ရုံးတော်ကိုတိုင်တည်၍
ကျိန်ဆိုတော်မူပြီ။
၁၀ မြို့တံခါးမှထွက်ကြ၊ ထွက်ကြ၊ လူများတို့လမ်း
ကိုပြင်ကြ၊ မြေဖို့ကြ၊ ဖို့ကြ၊ ကျောက်များကိုပယ်
၁၁ ရှင်းကြ၊ လူများအဘို့အလံကိုထူကြ၊- မြေကြီးစွန်း
တိုင်အောင် ထာဝရဘုရား မိန့် တော် မူ သည်
ကား၊ သင့်ကို ကယ်တင်သောသူသည် လာ၏။
မိမိခံထိုက်သောအခသည်မိမိ၌ပါလျက်၊ ဆုလဒ်
တော်သည်ရှေ့တော်၌ရှိ၏ဟု၊ ဇိအုန် သတို့သမီး
၁၂ ကိုပြောကြလော့။- သူတို့သည် သန့်ရှင်းသော
သူ၊ ထာဝရဘုရား ရွေးနှုတ်တော်မူသောသူဟူ
၍၎င်း၊ သင်သည်သူတပါးမစွန့်ပြစ်၊ စည်ပင်သော
မြို့ဟူ၍၎င်းသမုတ်ခြင်းကိုခံရလိမ့်မည်။

## ၆၃

၁ တင့် တယ် သော အဝတ် တန်ဆာ ဆင် ခြင်း၊
ကြီးသောတန်ခိုးကြောင့်ဝါကြွားခြင်းရှိ၍၊ ယန်း
ဆိုးသောအဝတ်ကိုဝတ်လျက်၊ ဧဒုံပြည်ဗောဇရ
မြို့ မှ လာသော ဤ သူကား၊ အဘယ်သူ ဖြစ်ပါ
လိမ့်မည်နည်း။
ဖြောင့်မတ်ခြင်းတရားကိုဟော၍၊ ကယ်တင်
ခြင်းငှါတန်ခိုးကြီးသောငါပေတည်း။
၂ ကိုယ်တော်သည် အဘယ်ကြောင့် နီသောအ
ဝတ်ကိုဝတ်တော်မူသနည်း။ အဝတ်တော်သည်
စပျစ်သီး ကို နင်း နယ်သော သူ၏ အဝတ်နှင့် အ
ဘယ်ကြောင့်တူပါသနည်း။
၃ စပျစ်သီးကို ငါတယောက်တည်း နင်းနယ်ရ
ပြီ၊ လူများအထဲကတယောက်မျှမပါ၊ သူတို့ကို
ငါအမျက်ထွက်၍ကျော်နင်းပြီ။ ပြင်းစွာအမျက်
ထွက်၍ နှိပ်နင်းပြီ။ သူတို့အသွေးသည်ငါ့အဝတ်
ပေါ် မှာ ပြန်းလျက်ရှိပြီ။ ငါ့အဝတ်တန်ဆာရှိသ
၄ မျှကိုငါဆိုးပြီ။- အပြစ်ပေးသောနေ့ရက်ကိုငါ
အောင်းမေ့ပြီ။ ငါရွေးနှုတ်သောသူတို့၏နှစ်သည်
၅ ရောက်လာပြီ။- ငါကြည့်ရှု၍၊ မစသောသူမရှိ၊
မှိုင်တွေသော်လည်းထောက်ပင့်သောသူမရှိ။ ထို

ကြောင့်၊ ကိုယ်ထက်သည်ကိုယ်အမှုကထဲတင
မြင်းကိုပြုပြီ၊ ကိုယ်ဒေါသအမျက်သည် ကိုယ်
၆ ကိုထောက်ပင့်ပြီ။– လူများကို အမျက်ထွက်၍
ကျော်နင်းပြီ၊ပြင်းစွာအမျက်ထွက်၍ကြပ်ကြပ်
နှိပ်နင်းပြီ၊ သူတို့အသွေးကိုမြေပေါ်မှာသွန်ပြီ။
၇ ထ ရူ ထာ နှင့် မဟာ မေတ္တာ တော် အတိုင်း၊
ထာဝရဘုရား သည် ငါတို့အား သနားတော်မူ
သော အရာ အလုံးစုံ ကိုင်၊ ဣသရေလ အမျိုး
သားတို့၌ ပြုတော်မူသော မဟာကျေးဇူးတော်
ကိုင်ထောက်၍၊ ထာဝရဘုရား၏မဟာမေတ္တာ
တော်နှင့်၊ ထာဝရဘုရား၏ဂုဏ်ကျေးဇူးတော်
၈ ကိုငါချီးမွမ်းမည်။– အကယ်စင်စစ်သူတို့သည်
ငါ၏လူဖြစ်ကြ၏၊သစ္စာမဖျက်သောသားယောည်း
ဖြစ်ကြ၏ ဟု မိန့်တော် မူ သဖြင့်၊ သူတို့ကို ကယ်
၉ နှုတ်တော်မူ၏၊ –အမှုရောက်လေရာရာ၌သူတို့ကို
စာနာ၍ဆဲ တော်မမူ၊ ရှေ့တော် မှ စေလွှတ် သော
ကောင်းကင်တမန်သည်ကယ်တင်လျက်၊ မေတ္တာ
ကရုဏာတော် ရှိသည် အတိုင်း၊ ရွေးနှုတ်တော်
မူ၏၊ ရှေးကာလပတ်လုံးသူတို့ကိုမြှောက်ဆောင်တော်
၁၀ မူ၏။– သူတို့သည်လည်း ပုန်ကန်၍၊ သန့်ရှင်း
သောဝိညာဉ်တော်ကိုနာစေကြ၏၊ ထိုကြောင့်၊ သူ
၁၁ တို့ကိုရန်သတ်ပြု၍ စစ်တိုက်တော်မူ၏။– ထိုအ
ခါ ထာဝရဘုရား၏ လူတို့သည်ရှေးကာလ၊ မော
ရှေ၏ ကာလကို အောက်မေ့ ကြ၏။ မိမိ လူတို့ကို
သိုး ထိန်းနှင့်တကွ ပင်လယ်ထဲက ထုတ်ဆောင်
သောဘုရားသည်အဘယ်မှာရှိတော်မူသနည်း။
မိမိလူတို့အထဲ၌ သန့်ရှင်းသော ဝိညာဉ်တော်ကို
၁၂ သွင်းလျက်၊–မောရှေ၏လက်ျာနားမှာဘုန်းကြီး
သောလက်ရုံးတော်ကိုသွင်း၍၊ အသရေတော်ကို
အစဉ် ထင်ရှားစေခြင်းငှါ၊ သူတို့ရှေ့မှာ ရေကို
၁၃ ခွဲသဖြင့်၊–လွင်ပြင်၌မြင်းကိုနှင်သကဲ့သို့၊ အဆီး
အတားမရှိဘဲ နက်နဲရာအရပ်၌ သူတို့ကို ဆောင်
သွားသောဘုရားသည် အဘယ်မှာရှိတော်မူသ
၁၄ နည်း။– နွားတို့ထဲသို့ဆိုးသွားဆင်းသွားသကဲ့သို့၊
ထာဝရဘုရား၏ ဝိညာဉ်တော်သည် ငြိမ်ဝပ်ရ
သော အခွင့်ကို ပေး တော် မူ၏။ ထိုသို့ အသရေ
တော်ကိုထင်ရှားစေခြင်းငှါ၊ ကိုယ်တော်၏လူတို့
ကိုဆောင်သွားတော်မူပါပြီ။
၁၅ ကောင်းကင် ဘုံက ငုံ့ကြည့်တော် မူပါ၊ သန့်
ရှင်း၍ ဘုန်းကြီးသောနေရာက ကြည့်ရှုတော်မူ
ပါ။ မိတ်တော်အားကြီး၍ တန်ခိုးကို ပြတော်မူ
ခြင်း၊ ကရုဏာတော်ထွက်ရှာ၍ အကျွန်ုပ်တို့ကို
သနားစုံမက်တော်မူခြင်းသည် အဘယ်မှာရှိပါ
၁၆ သနည်း၊ ချုပ်တည်းထော်မူသလော။– အာဗြဟံ
သည် အကျွန်ုပ် တို့ ကို မသိ၊ ဣသရေလ သည်
ထက်မခံသော်လည်း၊ အကယ်စင်စစ်ကိုယ်တော်
သည်အကျွန်ုပ်တို့အဘဖြစ်တော်မူ၏။ အိုထာဝရ
ဘုရား၊ ကိုယ်တော်သည် အကျွန်ုပ်တို့အဘ ဖြစ်
တော်မူ၏၊ ရှေးကာလမှစ၍ အကျွန်ုပ်တို့ကိုရွေး
၁၇ နှုတ် သော ဘုရား ဖြစ် တော်မူ၏။– အို ထာဝရ
ဘုရား၊ ကိုယ်တော်၏ထမ်းမှ အကျွန်ုပ်တို့ကိုအ
ထယ်ကြောင့်လွှဲစေတော်မူသနည်း။ ကိုယ်တော်
ကိုမကြောက်ရွံ့မည်အကြောင်း၊ အကျွန်ုပ်တို့၏
မိတ်နှလုံးကို အဘယ်ကြောင့်မိုင်မာစေတော်
မူသနည်း။ ကိုယ်တော်၏ကျွန်တို့အတွက်၊ အမွေ
တော်ဖြစ်သောအနွယ်တို့အတွက်ပြန်လာတော်
၁၈ မူပါ။– ကိုယ်တော် ၏ သန့်ရှင်းသူတို့သည် ခဏ
သာအမွေရပြီးမှ၊ ရန်သူတို့သည်သန့်ရှင်းရာဌာ
၁၉ နတော်ကို ကျော်နင်းကြသည်ဖြစ်၍၊– အကျွန်ုပ်
တို့သည်ကိုယ်တော်မအုပ်မိုးဘူးသောသူကဲ့သို့
၎င်း၊ နာမတော်ဖြင့် သမုတ်ခြင်းကို မခံ ဘူးသော
သူကဲ့သို့၎င်းဖြစ်ကြပါ၏။

၆၄

၁ ကိုယ်တော်သည် မိုဃ်းကောင်းကင်ကို ဖွင့်
ဖြဲ၍၊ ဆင်းသက်တော်မူပါစေသော၊ ရှေ့တော်
၂ ၌တောင်တို့သည်အရည်ပျော်ကြပါစေသော။– မီးသည်
အမှိုက်ကိုလောင်သကဲ့သို့၎င်း၊ ရေကိုဆူစေသကဲ့
သို့၎င်းဖြစ်ပါစေသော၊ သို့ဖြစ်လျှင်၊ ကိုယ်တော်
၏ရန်သူတို့သည်နာမတော်ကိုသိ၍၊ ရှေ့တော်၌
လူအမျိုးမျိုးတို့သည်တုန်လှုပ်ကြပါလိမ့်မည်။–
၃ အကျွန်ုပ်တို့မျှော်လင့်သည်ထက်၊ ကြောက်မက်ဖွယ်သော
အမှုတို့ကိုပြုတော်မူသောအခါ၊ ဆင်းသက်တော်
မူ၍ တောင်တို့သည် ရှေ့တော်၌ လှုပ်ကြပါ၏။–
၄ ကိုယ်တော်ကို မျှော်လင့်သော သူတို့အဖို့ အလို
ငှါ ကျေးဇူးပြုတော်မူသောဘုရား၊ ကိုယ်တော်
မှတပါး၊ အခြားသော ဘုရားသခင်ကို ကမ္ဘာဦး
စ၍ အဘယ် သူ မျှ မကြား၊ မသိပါ၊ နားဖြင့် မ
၅ ကြား၊ မျက်စိဖြင့် မမြင်စဖူးပါ။– ဝမ်းမြောက်
သော စိတ် နှင့် ဖြောင့်မတ် စွာ ကျင့် သော သူ၊
တရားတော် လမ်းတို့၌ ကိုယ်တော်ကို အောက်မေ့
သောသူတို့နှင့်ကိုယ်တော်သည်မိတ်ဆွေဖွဲ့
တော်မူ၏။ ထိုလမ်းတို့မှအကျွန်ုပ်တို့သည်အစဉ်
အမြဲပြစ်မှားသောကြောင့် အမျက်ထွက်တော်မူ
၏၊ ကယ်တင်ခြင်းသို့ရောက်ရကြပါမည်လော။–

၆ အကျွန်ုပ်တို့ရှိသမျှသည်စင်ကြယ်ခြင်းမရှိပါ။ ဖြူ
ဘူးသမျှ သော ကုသိုလ် ကောင်းမှုတို့သည် ညစ်
သောအဝတ်နှင့်တူကြပါ၏။ အကျွန်ုပ်တို့ရှိသမျှ
သစ်ပင်သစ်ရွက်ကဲ့သို့ညှိုးနွမ်းလျက်ရှိ၍၊ ကိုယ်အ
ပြစ်ဖြိုထပ်ဖြင့်လေကဲ့သို့အကျွန်ုပ်တို့ကိုတိုက်သွား
၇ ပါပြီ။- နာမတော်ကို ပဌနာ ပြုသော သူ၊ ကိုယ်
တော် ကို မှီဝဲ ခြင်း ငှါ ကိုယ်ကို ကိုယ် နှိုးဆော်
သောသူတယောက်မျှမရှိပါ။ အကြောင်းမူကား၊
မျက်နှာ တော်ကို ထွဲ၍ အကျွန်ုပ် တို့ကို ဒုစရိုက်
၈ အပြစ်အားဖြင့် ဆုံးရှုံးစေတော်မူပြီ။- သို့ရာတွင်
အိုယာဝေဘုရား၊ ကိုယ်တော်သည် အကျွန်ုပ်တို့
အဖ ဖြစ်တော်မူ၏။ အကျွန်ုပ် တို့ သည် ဖိုး မြေ
ဖြစ်ပါ၏။ ကိုယ်တော်သည် အကျွန်ုပ်တို့ ၏ ဖိုး
ထိန်း ဖြစ် တော်မူ၏။ အကျွန်ုပ် တို့ ရှိသမျှသည်
လက်တော် နှင့် ဖန်ဆင်းသော အရာ ဖြစ်ပါ၏။-
၉ အိုယာဝေဘုရား၊ ပြင်းစွာအမျက်ထွက်တော်မ
မူပါနှင့်။ ပြစ်မှား မိသော အပြစ်တို့ကို အစဉ်မ
ပြတ်အောက်မေ့တော်မမူပါနှင့်။ ကြည့်ရှုတော်
မူပါ။ အကျွန်ုပ်တို့ရှိသမျှသည်ကိုယ်တော်၏လူ
၁၀ ဖြစ်ကြပါ၏။- သန့်ရှင်းသော မြို့တော် တို့ သည်
တောဖြစ်ကြပါပြီ။ ဇိအုန် တောင်လည်း တော
ဖြစ်ပါပြီ။ ယေရုရှလင်မြို့လည်း ပျက်စီးပါပြီ။-
၁၁ ကိုယ်တော်ကို ဘိုးဘေးတို့ ချီးမွမ်းရာအရပ်၊ အ
ကျွန်ုပ် တို့၏ သန့်ရှင်း တင့် တယ် သော မိတ်မှန်
တော်ကိုမီးလောင်ပါပြီ။ အကျွန်ုပ်တို့ နှစ်သက်
ဖွယ်သော အရာရှိသမျှတို့သည် သုတ်သင်ပယ်
၁၂ ရှင်းလျက်ရှိကြပါ၏။- အိုယာဝေဘုရား၊ ဤအ
မှုတို့ကိုသည်းခံတော်မူမည်လော။ ဆောင့်လျက်
နေ၍ အကျွန်ုပ် တို့ကို အလွန် ဆင်းရဲ စေတော်မူ
မည်လော။

၆၅

၁ ငါ့ကိုမမေးမလျှောက်သောသူတို့၏ စကားကို
ငါနားထောင်ပြီ။ ငါ့ကိုမရှာသော သူတို့သည် ငါ
ကိုတွေ့ရကြပြီ။ ငါ့ကိုကြည့်ကြလော့။ ကြည့်ကြ
လော့ဟု၊ ငါ့နာမကိုပဌနာမပြုသော လူမျိုးအား
၂ ငါပြောဆိုပြီ။- မိမိအလိုအတိုင်းမကောင်းသော
လမ်းကိုလိုက်၍၊ ခြင်းဆန်တတ်သော လူမျိုးကို
မျက်နှာပြုလျက်၊ တနေ့လုံး ငါသည်ကိုယ်လက်
ဝါးကိုဖြန့်ရပြီ။- ထိုလူမျိုးသည်ဥယျာဉ်၌ယဇ်
ပူဇော်၍၊ အုတ်ပေါ်မှာလောဗန်ကိုမီးရှို့သဖြင့်၊
ငါ့အမျက်ကို နှိုးဆော်ခြင်းငှါ၊ ငါ့မျက်မှောက်၌
၄ အစဉ်ပြုတတ်၏။- သင်းချိုင်းမှာနေ၍၊ သင်း
ချိုင်းတွင်း၌ အိပ်တတ်၏။ ဝက်သားကို စား၍၊
စက်ဆုပ်ရွံရှာဖွယ်သောအမဲသားပြုတ်ရည်ကိုသောက်
၅ တတ်၏။- သူတို့ကလည်း၊ သင်သည် အသီးအ
ခြားနေလော့။ ငါ့ထံသို့မချဉ်းနှင့်။ ငါသည်သင့်
ထက်သာ၍သန့်ရှင်းသည်ဟုဆိုတတ်၏။ ထိုသို့
သော သူတို့သည် ငါ့နှာခေါင်း၌ မီးခိုး ကဲ့သို့၎င်း၊
အစဉ် လောင်သော မီးကဲ့သို့၎င်း ဖြစ်ကြ၏။- ငါ
၆ ရှေ့မှာစာရင်းမှတ်လျက်ရှိသည်ဖြစ်၍၊ ငါသည်
တိတ်ဆိတ်စွာ မနေ၊ အကျိုး အပြစ်ကို ဆပ်ပေး
၇ မည်။- သင်တို့၏ ဒုစရိုက် အပြစ်ကို၎င်း၊ တောင်
ပေါ်မှာ လောဗန်ကို မီးရှို့၍၊ တုန်းပေါ်မှာငါ့ကို
ကဲ့ရဲ့သော သင်တို့ဘိုးဘေး၏ ဒုစရိုက်အပြစ်ကို
၎င်း၊ သင်တို့ရင်ခွင်၌ ငါဆပ်ပေးမည်။ အရင်
စင်စစ် သူတို့ပြုဘူးသော အကျင့်တို့၏အကျိုးအ
ပြစ်ကိုသူတို့ရင်ခွင်၌ ငါခြင်၍ပေးမည်ဟု၊ ယာ
ဝေဘုရားမိန့်တော်မူ၏။
၈ တဖန် ယာဝေဘုရား မိန့်တော် မူ သည်ကား၊
စပျစ်သီးပြွတ်၌ စပျစ်ရည်ကိုတွေ့သောအခါ၊ မ
ဖျက်နှင့်၊ မင်္ဂလာရှိသည်ဟုဆိုတတ်သကဲ့သို့၊ ထို
အတူ၊ ငါ့ကျွန်တို့၏အကျိုးအလို့ငှါ ငါပြုမည်။ အ
၉ ကုန်အစင်မဖျက်။- ယာကုပ်အမျိုးထဲကမျိုးစေ့
ကို၎င်း၊ ယုဒအမျိုးထဲက ငါ့တောင် ကို အမွေခံရ
သောသူကို၎င်းငါထုတ်ဆောင်မည်။ ငါရွေးကောက်
သောသူတို့သည် ပြည်တော်ကို အမွေခံ၍၊ ငါ၏
၁၀ ကျွန်တို့သည် နေရကြလိမ့်မည်။- ငါ့ကိုရှာသော
ငါ၏ လူတို့ အဖို့၊ ရှာရုန် အရပ်သည် သိုးခြံ ဖြစ်
လိမ့် မည်။ အာခေါ် ချိုင့် သည်လည်း နွားများ
အိပ်ရာအရပ်ဖြစ်လိမ့်မည်။
၁၁ သင်တို့မူကား၊ ယာဝေဘုရားကိုစွန့်ပစ်သော
သူ၊ ငါ၏သန့်ရှင်းသောတောင်ကိုမေ့လျော့သော
သူ၊ ဂါဒဘုရားရှေ့မှာစားပွဲကိုခင်း၍၊ မေနိဘုရား
အားသွန်းလောင်းရာ ပူဇော်သကာကိုစွန်သော
၁၂ သူ ဖြစ်ကြ၏။- သင်တို့ကို ငါရေတွက်၍၊ ထားနှင့်
အပ်မည်။ ရှိသမျှတို့သည် အသေသတ်ခြင်းကို
ခံ ရ အောင် ဦးညွှတ်ရကြ လိမ့် မည်။ အကြောင်း
မူကား၊ သင်တို့ သည် ငါ ခေါ် သော အခါ မထူး
ကြ။ ငါပြောသောအခါ နားမထောင်ကြ။ ငါ့မျက်
မှောက်၌ မကောင်းသောအကျင့်ကို ကျင့်ကြ၏။
၁၃ ငါ မနှစ်သက်သော အရာကို ရွေးယူကြ၏။- ထို
ကြောင့်၊ အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ငါ၏ကျွန်တို့သည်စားကြလိမ့်မည်။ သင်
တို့မူကား၊ ငတ်သိပ်ကြလိမ့်မည်။ ငါ၏ကျွန်တို့

အည့် သောက်ကြ လိမ့် မည်၊ သင် တို့ မူ ကား၊
ရေငတ် ကြ လိမ့် မည်၊ ငါ၏ ကျွန်တို့သည် ဝမ်း
မြောက် ကြ လိမ့် မည်၊ သင် တို့ မူ ကား၊ ရှက်
ကြောက်ကြ လိမ့်မည်။– ငါ၏ကျွန်တို့သည် ရွှင်
လန်းသောစိတ်နှင့်သီခြင်းဆိုကြလိမ့်မည်၊ သင်
တို့ မူကား၊ ဝမ်းနည်းသောစိတ်နှင့် ငိုကြွေး ကြ
လိမ့်မည်၊ ကြေကွဲသောနှလုံးနှင့် ညည်းတွား
၁၅ မြည် တမ်း ကြလိမ့်မည်။- သင်တို့သည် ကိုယ်
နာမကို ၊ငါရွေးကောက်သော သူတို့ ၌ ကျိန်ဆဲဖို့
ရာကျန်ရစ်စေကြလိမ့်မည်၊ အရှင်ထာဝရဘုရား
သည်သင်တို့ကိုကွပ်မျက်၍၊ ကိုယ်တော်၏ကျွန်
တို့ကို အခြားသောနာမဖြင့် မှည့်တော်မူမည်။–
၁၆ မြေကြီးပေါ်မှာ မိမိကို မိမိကောင်းကြီးပေးသော
သူသည်၊ သစ္စာစောင့်တော်မူသောဘုရားသခင်
ကိုအမှီပြု၍ ကောင်းကြီးပေးလိမ့်မည်၊ မြေကြီး
ပေါ်မှာကျိန်ဆိုသောသူသည်၊သစ္စာစောင့်တော်
မူသော ဘုရား သခင်ကို တိုင် တည်၍ ကျိန် ဆို
လိမ့်မည်၊ အကြောင်းမူကား၊ အရင်အမှုတို့ကို
မေ့ လျော့ ရ၏၊ ငါ့မျက် မှောက် ၌ ကွယ် ပျောက်
လျက်ရှိကြ၏။
၁၇ ကြည့်ရှုလော့၊မိုဃ်းကောင်းကင်သစ်နှင့်မြေ
ကြီးသစ်ကိုငါဖန်ဆင်းမည်၊အရင်မိုဃ်းကောင်း
ကင်နှင့်မြေကြီးကိုမအောင်းမေ့ရ၊နှလုံးမမှတ်
၁၈ မိရ။– ငါဖန်ဆင်းလတံ့သော အရာကြောင့်၊ သင်
တို့သည် အစဉ်အမြဲ ဝမ်းမြောက် ရွှင်လန်းကြ
လိမ့်မည်၊ယေရုရှလင်မြို့ကိုဝမ်းမြောက်စရာအ
ကြောင်း၊ မြို့သားတို့ကို ရွှင်လန်းစရာအကြောင်း
၁၉ ဖြစ်စေ ခြင်းငှါ ငါဖန်ဆင်း၏။– ငါသည်လည်း၊
ယေရု ရှလင် မြို့ ကြောင့် ဝမ်းမြောက်မည်၊ ငါ၏
လူတို့ကြောင့် ရွှင်လန်းမည်၊ ထိုမြို့၌ ငိုကြွေး သံ
၂၀ နှင့်အော်ဟစ်သံကိုနောက်တဖန်မကြားရ။-ထို
မြို့၌ အသက်ငယ်သောသူငယ်မရှိရ၊ အသက်မ
ပြည့်စုံသောလူအိုလည်းမရှိရ၊ အသက်တရာရှိ
လျက်သေသောသူကို သူငယ်ဟူ၍မှတ်ရ၏၊ အ
ပြစ်ရှိသော သူသည် အသက် တရာရှိလျက် သေ
လျှင်၊ ကျိန်ခြင်းကိုခံရသောသူဟူ၍ မှတ်ရ၏။–
၂၁ ထိုသူတို့သည်ကိုယ် ဆောက်သောအိမ်၌ နေကြ
လိမ့်မည်၊ကိုယ်စိုက်သောစပျစ်ဥယျာဉ်အသီးကို
၂၂ စားကြလိမ့်မည်။– သူတို့သည် အိမ်ကိုဆောက်
၍အခြားသော သူနေရမည်မဟုတ်၊ သူတို့သည်
စပျစ်ဥယျာဉ်ကိုစိုက်၍ အခြားသောသူစားရမည်
မဟုတ်၊ ငါ၏ လူတို့ အသက်သည် သစ်ပင်၏ အ
သက်ကဲ့သို့ ဖြစ်၍၊ သူတို့သည် ကိုယ်ပြုစုသော
အရာကိုကြာမြင့်စွာသုံးဆောင် ရကြလိမ့်မည်။-
၂၃ ငါရွေးကောက်သော သူတို့သည် အချည်းနှီး မ
လုပ်မဆောင်ရကြ၊ အသက်တိုသော သားကိုမ
ဖွားမမြင်ရကြ၊ ကိုယ်တိုင်မှစ၍ အမျိုးအနွယ်
တို့သည်၊ ထာဝရဘုရားပေးတော်မူသောကောင်း
ကြီး မင်္ဂလာ ကိုခံရသောသူ ဖြစ် ကြ လိမ့်မည်။–
၂၄ ငါသည်သူတို့ မခေါ်မီကပင်ထူးမည်၊ လျှောက်
၂၅ စည်တွင်ပင် ငါနားထောင်မည်။– တောခွေးနှင့်
သိုး သငယ် တို့သည် အတူ ကျက် စား ကြ လိမ့်
မည်၊ ချင်သေ့သည် နွားကဲ့သို့ မြက်ကို စားလိမ့်
မည်၊မြွေမူကား၊ မြေမှုန့်ကိုသာစားရလိမ့်မည်၊
ငါ၏ သန့်ရှင်းသော တောင် တပြင်လုံး၌ အချင်း
ချင်းညှဉ်းဆဲခြင်း၊ ဖျက်ဆီးခြင်းကိုမပြုရကြဟု
ထာဝရဘုရားမိန့်တော်မူ၏။

၆၆

၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ကောင်း
ကင်ဘုံသည်ငါ့ပလ္လင်ဖြစ်၏၊မြေကြီးသည် ငါ့ခြေ
တင်ရာခုံဖြစ်၏၊အဘယ်သို့သောဗိမာန်ကိုငါ့အ
ဖို့တည်ဆောက် ကြမည်နည်း။ အဘယ် အရပ်
သည် ငါ ကျိန်း ဝပ်ရာ အရပ် ဖြစ် မည် နည်း။–
၂ ဤအရာ အလုံးစုံ တို့သည် ငါကိုယ်တိုင် ဖန်ဆင်း
သောကြောင့် ဖြစ်ကြ၏၊ စိတ်နှိမ့်ချခြင်း၊ နှလုံး
ကြေကွဲခြင်း၊ ငါ့စကား ကြောင့် တုန် လှုပ်ခြင်း ရှိ
သောသူကိုသာငါကြည့်ရှုမည်။
၃ တဖန် မိန့်တော် မူသည်ကား၊ နွားကို သတ်
သောသူသည် လူကိုသတ်သောသူနှင့်တူ၏၊သိုး
သငယ်ကိုယဇ်ပူဇော်သောသူသည် ခွေးလည်
ပင်းကို ဖြတ်သော သူနှင့်တူ၏၊ အလှူဒါနကိုလှူ
တန်းသောသူသည် ဝက်သွေးကိုလှူတန်းသော
သူနှင့်တူ၏၊ လောဗန်ကိုမီးရှို့သောသူသည်ရုပ်
တုကို ကောင်းကြီး ပေး သော သူနှင့် တူ၏၊ အ
ကယ်စင်စစ် ထိုသူတို့သည် မိမိ အလိုရှိရာ လမ်း
ကိုရွေးကြ၏၊ မိမိ ဆိုး ညစ်သော အမှု တို့၌ မွေ့
၄ လျော် ကြ၏။– ငါသည်လည်း၊ သူတို့ တို့ ဘေးဥ
ပါတ်များကို ရွေးမည်၊ သူတို့ကြောက်သော အ
မှုကိုရောက်စေမည်၊ အကြောင်းမူကား၊ငါခေါ်
သောအခါ အဘယ်သူမျှ မထူး၊ငါပြောသောအ
ခါ သူတို့သည်နားမထောင်ကြ၊ငါ့မျက်မှောက်၌
မကောင်းသော အကျင့်ကိုကျင့်၍၊ ငါမနှစ်သက်
သောအရာကိုရွေးယူကြ၏။
၅ ထာဝရ ဘုရား၏ နှုတ် ကပတ် စကား ကြောင့်

ကြောင့်တုန်လှုပ်သောသူတို့၊စကားတော်ကိုနား
ထောင်ကြလော့။သင်တို့ကိုမုန်း၍၊ငါ့နာမကြောင့်
နှင်ထုတ်သော ညီအစ်ကို တို့က၊ ငါတို့သည်သင်
တို့၏ဝမ်းမြောက်ခြင်းကိုမြင်ရမည်အကြောင်း၊
ထာဝရဘုရားသည်ဘုန်းပွင့်တော်မူစေသတည်း
ဟု ပြော ထတ် သော် ထည်း၊ ရှက် ကြောက် ကြ
၆ လိမ့်မည်။- မြို့၌အုတ်အုတ်ကျက်ကျက်သောအ
သံ၊ ဗိမာန်တော်ထဲက ထွက်သောအသံ၊ရန်သူ
တို့အား အကျိုး အပြစ်ကို ပေးတော်မူသော ထာ
ဝရဘုရား၏စကားသံပေတည်း။
၇ မိန်းမ သည်ဖွားမြင်းသည် သားဖွားခြင်းဝေဒနာ
ကိုမခံမှီသားကိုဖွားမြင်၏၊ ဝေဒနာခံချိန်မရောက်မှီ
၈ သားယောက်ျားကိုမြင်၏။- ထိုသို့သော အမှုကို
အဘယ်သူသည်ကြားဘူးသနည်း၊ ထိုသို့သော
အမှုတို့ကို အဘယ်သူ သည် မြင်ဘူး သနည်း။
တိုင်းနိုင်ငံကို တနေ့ချင်းကွင်းကြားဝပါသလော။
ပြည်သူ ပြည်သား အပေါင်း တို့ကို တပြိုင်နက်
ဖွားတတ်သလော။ ဇိအုန်သတို့သမီးသည် သား
ဖွားခြင်းဝေဒနာကိုခံဆဲဆဲတွင်၊ သားများကို
၉ ဖွားမြင်ပါသည်တကား။- သား ဖွား မည် အ
ကြောင်းကိုငါသည်စီရင်ပြီးမှ၊ မဖွားစေဘဲနေရ
မည်လောဟု၊ ထာဝရဘုရား မေးတော်မူ၏။ ငါ
သည် ပဋိသန္ဓေပေးပြီးမှ၊ မဖွားနိုင်အောင်ချုပ်
ထားရမည်လော ဟု၊ သင်၏ ဘုရား သခင် မေး
၁၀ တော်မူ၏။- ယေရုရှလင်မြို့ကို ချစ်သော သူ အ
ပေါင်းတို့၊ သူနှင့်အတူဝမ်းမြောက် ရွှင်လန်းကြ
လော့။ယေရုရှလင်မြို့အတွက်မိတ်မသာ ညည်း
တွားသောသူအပေါင်းတို့၊ သူနှင့်အတူအလွန်
၁၁ ဝမ်းမြောက်ကြလော့။-သို့ပြုလျှင်၊သူ၏ချမ်းသာ
ခြင်းအမြတ်ကို နို့၍ ဝကြ လိမ့်မည်။ သူ၏ စည်း
စိမ်ကြွယ်ဝခြင်း အထဲက ထုတ်ယူ၍ မွေ့လျော်
ကြလိမ့်မည်။
၂ ထာဝရဘုရားမိန့်တော်မူသည်ကား၊ မြစ်ကဲ့
သို့ ချမ်းသာကိုငှင်၊ မြီးသောရေကဲ့သို့ တပါးအ
မျိုးသားတို့၏စည်းစိမ်ကိုငှင်၊ယေရုရှလင်မြို့သို့
ငါရောက်စေမည်။ သင်တို့သည်သမြတ်ကိုနို့၍
ခါး၌ ချီခြင်း၊ ဒူးပေါ်မှာ မြှူခြင်းကို ခံ စားရ ကြ
၁၃ လိမ့်မည်။- အမိသည်သားငယ်ကို နှစ်သိမ့်စေ
သကဲ့သို့၊ သင်တို့ကိုငါနှစ်သိမ့်စေမည်၊ ယေရုရှ
၁၄ လင်မြို့၌ချမ်းသာရကြလိမ့်မည်။-ထိုသို့တွေ့မြင်
သခြင်း၊ သင်တို့၏ နှစ်လုံးသည် ရွှင်မြူး၍၊ အရိုး
တို့ သည် မြက်၊ ထန်း သော အပင်ကဲ့သို့ သန်ကြ
လိမ့် မည်။ ထာဝရ ဘုရား၏ လက် တော် အစွမ်း
သည်ကျွန်တော်တို့အားငှင်၊အမျက်တော်အမျက်
ရန်သူတို့အားငှင်ထင်ရှားလိမ့်မည်။
၁၅ ကြည့်ရှုလော့၊ ထာဝရ ဘုရားသည် ပြင်းစွာ
သောအမျက်အားဖြင့်အမျက်တော်ကိုငှင်၊မီးလျှံ
အားဖြင့် ဆုံးမတော်မူခြင်းကိုငှင် ထင်ရှားစွာပြ
ခြင်းငှါ၊ လေဘွေကဲ့သို့သောရထားတော် တို့ကို
၁၆ စီး၍၊မီးကဲ့သို့ကြွလာတော်မူလိမ့်မည်။-ထာဝရ
ဘုရားသည်မီးနှင့်ထားအားဖြင့်၊ လူသတ္တဝါအ
ပေါင်းတို့ကိုအပြစ်ပေးတော်မူ၍၊ထာဝရဘုရား
ကွပ်မျက်တော်မူသော သူတို့သည် များကြလိမ့်
၁၇ မည်။- တဖန်မိန့်တော်မူသည်ကား၊ ဝတ်ဆေး၊
ကြွက်သား၊ ရွံရှာဖွယ်သောအရာကိုစားလျက်၊
ဥယျာဉ်တို့တွင်အလယ်၌ ရှိသောသူတယောက်
နောက်သို့လိုက်၍၊ မိမိတို့ကို သန့်ရှင်းစင်ကြယ်
စေသောသူတို့သည် တပြိုင်နက်ပျက်စီးခြင်းသို့
ရောက်ကြ လိမ်မည်။ သူတို့၏ အကျင့်တို့ကို ငှင်၊
အကြံအစည်တို့ကိုငှင်ငါသိ၏။
၁၈ အချိန်တန်မှထာသာစကားခြားနားသောလူ
အမျိုးမျိုးအပေါင်းတို့ကို ငါစည်းဝေးစေသဖြင့်၊
သူတို့သည် လာ၍ ငါ၏ ဘုန်း ကို မြင်ခြင်း ကြလိမ့်
၁၉ မည်။- ထိုသူ တို့တွင် အထံကို ငါထုမည်။ ဘေး
လွတ်သောသူတို့ကိုတာရှုပြည်၊ပုထပြည်၊လေး
ထတ်နက်ကို သုံးတတ်သောလုဒပြည်၊ တုဗာ
ပြည်၊ ယာဝန်ပြည်မှစ၍၊ ငါ၏နာမကိုမကြား၊
ငါ၏ဘုန်းကိုမမြင်၊ ဝေးစွာသောကျွန်းထ နိုင်
ငံအရပ်သို့စေလွှတ်သဖြင့်၊တပါးအမျိုးသားတို့
၂၀ ထွန်း ငါ၏ ဘုန်းကိုဟောပြောကြလိမ့်မည်။- ဣ
သရေလ အမျိုး သား တို့ သည် စင်ကြယ် သော
စထား စသည်တို့နှင့်၊ ပူဇော် သကာကို ဗိမာန်
တော်သို့ဆောင်ခဲ့သကဲ့သို့၊ထိုသူတို့သည်သင်တို့
၏ညီအစ်ကိုအပေါင်းကိုမြင်း၊ရထား၊ထမ်းစင်၊
မြီ၊ ကုလား အုတ်ပေါ်၌ တင်၍၊ ထာဝရဘုရား
အားပူဇော်ရာ၊ ခပ်သိမ်းသောအပြည်ပြည်တို့
မှ ငါ၏ သန့်ရှင်းသော တောင်၊ ယေရုရှလင်မြို့သို့
ဆောင်ခဲ့ကြလိမ့်မည်ဟုထာဝရဘုရားမိန့်တော်
၂၁ မူ၏။- ထိုသူ အချို့ တို့ကို ငါ ရွေး ယူ၍၊ ယဇ်ပ
ရောဟိတ်အရာနှင့်လေဝိလူအရာ၌ ခန့်ထားမည်
ဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၂၂ ငါဖန်ဆင်းသော ကောင်းကင်သစ်နှင့်မြေကြီး
သစ်သည် ငါ့ရှေ့၌ တည် သကဲ့သို့၊ သင်တို့၏ အ
မျိုး၊အနွယ် နှင့်သင်တို့၏နာမသည်တည်လျက်

၂၃ ရလိမ့်မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။-လူ
အပေါင်း၏ အပေါင်းတို့ သည် ရွေ့မှာ ကိုးကွယ်
ခြင်းငှါ၊ လ ဆန်း ရက် နှင့် ဥပုသ်နေ့ အစဉ် အ
ထိုင်း လာကြလိမ့် မည်ဟု၊ ထာ ဝ ရ ဘု ရား မိန့်
၂၄ တော်မူ၏။-ထိုသူတို့သည်၊ ငါ့ကိုပြစ်မှားသောသူ
တို့၏ အသေကောင်များကို ထွက်၍ ကြည့်ရှု[illegible]
လိမ့်မည်။ သူတို့၏ပိုးသည် မသေနိုင်ရာ။ သူတို့၏
မီးသည် ထည်း မငြိမ်းနိုင် ရာ။ လူ သတ္တဝါ အ
ပေါင်းတို့၌ ရွံရှာဖွယ် ဖြစ်ရကြလိမ့်မည်ဟုမိန့်
တော်မူ၏။

ပရောဖက်ဟေရှာယမိရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

---

# ယေရမိအနာဂတ္တိကျမ်း။

## BOOK OF THE PROPHET JEREMIAH.

၁

၁-၃ ယုဒရှင်ဘုရင်အာမုန်သားယောရှိမင်းနန်း
စံ ဆယ်သုံးနှစ်တွင်၎င်း၊ ယုဒရှင်ဘုရင် ယောရှိ
သား ယောယကိမ် ထက် ထက် ၌ ၎င်း၊ ယုဒ ရှင်
ဘုရင် ယောရှိသား ဇေဒကိမင်း နန်းစံ ဆယ်တ
နှစ်နေ၍ ပဉ္စမလတွင်၊ ယေရုရှလင်မြို့သားတို့
ကို သိမ်းသွားချုပ်ထားသည် ဟိုင်အခါင်၊ ထာ
ဝရဘုရား၏နှုတ်ကပတ်တော်ကိုခံရသော ဗယ်သမိန်
မြို့၌၊ အာနသုတ်မြို့နေယဇ်ပုရောဟိတ်သား၊ ထင်ပရော
ဟိတ်ယေရမိစကားမှာ၊
၄ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည် ငါ့ဆီ
၅ သို့ရောက်၍ မိန့်တော်မူသည်ကား၊- သင့်ကိုအ
မိဝမ်းထဲ၌ငါမဖန်ဆင်းမှီသင့်ကိုငါသိပြီ၊ မဖွား
မှီကပင် သင့်ကို ငါသန့်ရှင်းစေ၍၊ လူအမျိုးမျိုး
တို့ အဖို့၊ ပရောဖက် အရာ ၌ ခန့် ထား ပြီဟု မိန့်
၆ တော်မူ၏။-ငါကလည်း၊ အိုအရှင်ထာဝရဘုရား၊
အကျွန်ုပ်သည် မဟော မပြောတတ်ပါ၊ သူငယ်
၇ ဖြစ် ပါ၏ ဟု လျှောက် လျှင်၊- ထာ ဝရဘုရား က
လည်း၊ အ ကျွန်ုပ်သည် သူငယ် ဖြစ် ပါ၏ဟု မ
ပြောနှင့်၊ အကြင်သူရှိရာသို့ သင့်ကို ငါစေလွှတ်
၏၊ ထိုသူရှိရာသို့သင်သွားရမည်၊ အကြင်စကား
ကို ငါ မှာထား၏၊ ထို စကား ကို သင်ဆင့် ဆိုရ
၈ မည်။-သူတို့ကိုမကြောက်နှင့်၊ သင့်ကိုကယ်နှုတ်
ခြင်းငှါသင်နှင့်အတူငါရှိသည်ဟု မိန့်တော်မူပြီး
၉ မှ၊- လက်တော်ကို ဆန့်၍ ငါ့နှုတ်ကို ထိတော်မူ
လျက်၊ ထာဝရဘုရား[illegible]ကို ငါ သွင်း ထား
၁၀ ပြီ။- ကြည့်ရှုလော့၊ သင်သည် နှုတ်ပယ်ဖြိုဖျက်
သိမ်းမှောက်လှည့်ရသောအခွင့်၊ တည်ဆောက်
စိုက်[illegible]သော အခွင့်နှင့်၊ သင့်ကိုလူအမျိုးမျိုး
တို့[illegible]နိုင်ငံများအပေါ်မှာယနေ့ငါခန့်ထား
ပြီဟု မိန့်တော်မူ၏။
၁၁ တဖန်ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
ငါ့ဆီသို့ရောက်၍၊ ယေရမိ၊ သင်သည်အဘယ်အ
ရာကို မြင်သနည်းဟု မေးတော်မူလျှင် ငါက၊ အ
ကျွန်ုပ်သည် ဗာဒံကိုင်းကိုမြင်ပါ၏ဟုလျှောက်
၁၂ သော်၊-ထာဝရဘုရားက၊ သင်သည်မှန်ကန်စွာ
မြင်ပြီ၊ အကြောင်းမူကား၊ ငါ့စကားကို ပြည့်စုံ
စေခြင်းငှါ၊ ငါစောင့်နေမည်ဟုမိန့်တော်မူ၏။
၁၃ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
ဒုတိယအကြိမ် ငါ့ဆီသို့ ရောက်၍၊ သင်သည်အ
ဘယ်အရာကို မြင်သနည်းဟု မေးတော် မူလျှင်
ငါက၊ အကျွန်ုပ်သည် ဆူပွက်သော အိုးကင်းကို
မြင်ပါ၏၊ မြောက်ဘက်သို့မျက်နှာပြုလျက် ရှိပါ
၁၄ ၏ဟု လျှောက်လျှင်၊-ထာဝရဘုရားက၊ မြောက်
မျက်နှာဘက်ကဘေးဥပါဒ်သည်၊ ဤပြည်သား
၁၅ တို့ အပေါ်သို့ ထွက်လာလိမ့်မည်။- အကြောင်း
မူကား၊ မြောက် တိုင်း နိုင်ငံ သား အ မျိုး မျိုး အ
ပေါင်းတို့ကိုငါခေါ်၍၊ သူတို့သည် လာပြီးလျှင်၊
ယေရုရှလင်မြို့တံခါးဝများတို့၌၎င်း၊ မြို့ရိုးပတ်
ဝန်းကျင် အရပ်ရပ်တို့၌၎င်း၊ ယုဒမြို့ရွာ အလုံးစုံ
တို့၌၎င်း၊ မိမိတို့ရာဇပလ္လင်များကို အသီးအသီး
၁၆ တည်ထားကြလိမ့်မည်။- ဖြည်သူမြို့သားတို့

သည် ငါ့ကိုစွန့်သောအပြစ်၊ အခြားသောဘုရား
တို့အားနံ့သာပေါင်းကိုမီးရှို့သောအပြစ်၊ မိမိတို့
လက်ဖြင့် လုပ်သောအရာကို ကိုးကွယ်သောအ
ပြစ် ရှိသမျှ တို့ကြောင့်၊ သူတို့ကို ငါစစ်ကြော၍၊
၁၇ အပြစ်နှင့်အလျောက်စီရင်မည်။-သို့ဖြစ်၍၊သင်
သည်ခါးပန်းကိုစည်း၍ထလော့။ ငါမှာထားသ
မျှကို သူတို့အား ဟောပြောလော့။ သူတို့ ရှေ့မှာ
သင့်ကိုငါအရှက်မခွဲရမည်အကြောင်း၊သူတို့ကို
၁၈ မကြောက်နှင့်။- ကြည့်ရှုလော့။ ယုဒရှင်ဘုရင်၊
မင်းသား၊ ယဇ်ပုရောဟိတ်၊ ပြည်သူပြည်သား
တည်းဟူသောတနိုင်ငံလုံးတဖက်၌ ခိုင်ခံ့သော
မြို့၊သံတိုင်၊ကြေးဝါထရံအရာ၌သင့်ကိုယနေ့ငါ
၁၉ ခန့်ထား၏။-သူတို့သည်သင့်ကိုစစ်တိုက်၍မနိုင်
ရကြ။ သင့်ကိုကယ်နှုတ်ခြင်းငှါ၊ သင်နှင့်အတူ
ငါရှိသည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

## ၂

၁ တဖန် ထာဝရဘုရား ၏ နှုတ်က ပတ် တော်
သည်ငါ့ဆီသို့ရောက်၍၊ သင်သည်ယေရုရှလင်မြို့
၂ သို့သွားပြီးလျှင်၊- အော်ဟစ်ရမည် အရာဟူမူ
ကား၊ထာဝရဘုရားက၊လယ်မလုပ်သောတော
အရပ်၌သင်သည်ငါ့နောက်သို့ လိုက်သောအခါ၊
အသက် အရွယ်နုငယ်၍ ခံရသော ကျေးဇူးကို
၎င်း၊ ထိမ်းမြားပေးစားခြင်းနှင့် ရှည်သော ချစ်
၃ ခြင်းမေတ္တာကို၎င်းငါအောက်မေ့၏။-ထိုအခါ ဣ
သရေလအမျိုးသည်ထာဝရဘုရားအဖို့သန့်ရှင်း
၏။ စီးပွားတော်အဖို့ အဦးသီးသော အသီးဖြစ်
၏။ သူတို့ကိုလုယူသော သူအပေါင်းတို့သည်အ
ပြစ် ရှိကြ၏။ ထိုသူ တို့ အပေါ်မှာ ဘေးဥပါဒ်
ရောက်ရသည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၄ ဟို ယာကုပ် အမျိုးနှင့် ဣသရေလ အ မျိုး အ
နွယ်အပေါင်းတို့၊ ထာဝရဘုရား၏နှုတ်ကပတ်
၅ တော်ကို နားထောင်ကြလော့။- ထာဝရဘုရား
မိန့်တော် မူ သည် ကား၊ သင်တို့၏ ဘိုးဘေး တို့
သည်ငါ့ထံမှဝေးစွာထွက်သွား၍၊ အနတ္တထမ်း
သို့လိုက်လျက်၊အနတ္တသက်သက်ဖြစ်ရမည်အ
ကြောင်း၊ ငါ၌ အဘယ်မည်သောအပြစ်ကိုတွေ့
၆ ကြ သနည်း။- သူတို့က၊ ငါတို့ကိုအဲဂုတ္တုပြည်
မှကယ်နှုတ်၍၊ တော တရှောက်လုံး၊ လွင်ပြင်၊
မြေတွင်းနှင့် ပြည့် စုံသော ပြည်၊ သွေ့ခြောက်၍
သေမင်းအရိပ် လွှမ်း မိုးသောပြည်၊ ခရီးသွား
သောသူ၊ နေရာ ကျသော သူမရှိ သော ပြည် တ
ရှောက် လုံး သို့ ပို့ဆောင် သော ထာဝရ ဘုရား
သည် အဘယ်မှာရှိတော်မူသနည်းဟုမမေးကြ။-
၇ ဝပြောသောပြည်၏အသီးအနှံဆီဥဆီကြည်ကို
စားစေခြင်းငှါသင်တို့ကိုငါဆောင်သွင်း၍၊ သင်
တို့သည် ဝင်စားသောအခါ၊ ငါ့ပြည်ကိုညစ်ညူး
စေ၍၊ ငါ၏အမွေကို ရွံရှာဖွယ် ဖြစ်စေကြသည်
၈ တကား။-ယဇ်ပုရောဟိတ်တို့က၊ထာဝရဘုရား
သည်အဘယ်မှာရှိတော်မူသနည်းဟုမမေးကြ။
ကျမ်းတတ်တို့သည် ငါ့ကိုမသိကြ။ သင်းအုပ်တို့
သည်ငါ့ကိုပြစ်မှားကြ၏။ ပရောဖက်တို့သည်ဗာ
လကို အမှီပြု၍ ဟောပြောလျက်၊ ကျေးဇူးမဲ့
သောထမ်းသို့လိုက်ကြ၏။
၉ ထိုကြောင့်၊ သင်တို့နှင့် သင်တို့သားသမီးများ
ကိုငါစစ်ကြောမည်ဟု၊ ထာဝရဘုရားမိန့်တော်
၁၀ မူ၏။-ခိတ္တိမ်ကျွန်းတို့သို့ကူး၍ကြည့်ရှုကြလော့။
ကေဒါပြည်သို့ လူကိုစေလွှတ်၍၊ ထိုသို့ဖြစ်ဘူး
ပြီလောဟု၊ စေ့စေ့ ကြည့်ရှု ဆင်ခြင်ကြလော့။-
၁၁ အခြားတပါးသောလူမျိုးကိုးကွယ်သောဘုရား
သည်ဘုရားမဟုတ်သော်လည်း၊ ပြောင်းလဲဘူး
ပြီလော။ငါ၏လူမျိုးသည်ကျေးဇူးမပြုနိုင်သော
အရာတို့၊ မိမိတို့ ဘုန်း ကို ပြောင်း လဲ ကြ ပြီတ
၁၂ ကား။- ထာဝရဘုရား မိန့် တော် မူသည် ကား၊
ဟို မိုဃ်း ကောင်း ကင် တို့၊ ထို အမှုကို မိန်းမော
တွေ ဝေ၍၊ ကြက် သီး မွေးညှင်း ထ သည် တိုင်
၁၃ အောင်ထိတ်လန့်လျက်နေကြလော့။-ငါ၏လူတို့
သည်အသက်စမ်းရေတွင်းတည်းဟူသော၊ငါ့ကို
စွန့်ပယ်၍၊ရေမလုံ၊ဝဲ့ပျက်သောရေကျင်းတို့ကို
တူးသောအားဖြင့်ဒုစရိုက်နှစ်ပါးကိုပြုကြပြီ။
၁၄ ဣသရေလသည်ကျွန်ဖြစ်သလော။ကျွန်သား
ပေါက်ဖြစ်သလော။ အဘယ်ကြောင့်လုယူခြင်း
၁၅ ကိုခံရသနည်း။-ခြင်္သေ့တို့သည်သူကိုဟောက်
၍အသံမြည်ကြပြီ။သူ၏ပြည်ကိုဖျက်ဆီးကြပြီ။
သူ၏မြို့တို့သည်မီးလောင်သောကြောင့်၊အဘယ်
၁၆ သူမျှ မနေရ။- နောဖ မြို့ သား နှင့် တာပနက် မြို့
၁၇ သားတို့သည် သင်၏ဦးထိပ်ကိုစားကြပြီ။-သင့်
ကို ပို့ဆောင်တော် မူသော သင်၏ ဘုရား သခင်
ထာဝရဘုရားကို သင်သည် စွန့် သော ကြောင့်၊
ထိုသို့သော အပြစ်ရောက်သည် မဟုတ်လော။-
၁၈ ယခုမှာ သင်သည် ရှိဟောရမြစ်ရေကို သောက်
အံ့သောငှါ၊ အဲဂုတ္တု လမ်းသို့ အဘယ်ကြောင့်
လိုက် သနည်း။ ဥဖရတ် မြစ် ရေကို သောက်အံ့
သောငှါ၊အာရှုရိလမ်းသို့အဘယ်ကြောင့်လိုက်
၁၉ သနည်း။-သင်၏ဒုစရိုက်သည်သင့်ကိုဆုံးမမည်။

သင်၏ ဖောက်ပြန်ခြင်းသည် သင့်ကို အပြစ်ပေး
မည်၊ သို့ဖြစ်၍၊ သင်၏ဘုရားသခင်ထာဝရဘုရား
ကိုစွန့်ပြစ်သောအမှု၊ ငါ့ကိုမကြောက်ဘဲနေသော
အမှုသည်၊ မကောင်းသော အမှု၊ ခါးသောအမှု
ဖြစ်သည်ကိုသိမြင်ရမည်ဟု၊ ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏။
၂၀ ရှေးကာလ၌သင်ထမ်းရသောထမ်းဘိုး၊ သင်
၌ချည်သော နှောင်ဖွဲ့ခြင်းကို ငါချိုး ဖျက်၍ သင်
က၊ အကျွန်ုပ်သည် မဖျားယွင်းဘဲ နေပါမည်ဟု
ဂတိထားသော်လည်း၊ မြင့်သောတောင်ရှိသမျှ
အပေါ်၌၎င်း၊ မြိမ်းသော သစ်ပင်ရှိသမျှအောက်
၌၎င်း၊ ကိုယ်ကို ချ၍ ပြည်တန်ဆာလုပ်လေ၏။–
၂၁ အကောင်းဆုံးသော စပျစ်နွယ်ပင် အမျိုးစစ်ဖြစ်
သောသင့်ကိုငါစိုက်ပျိုးသော်လည်း၊ သင်သည်
ငါ့ရှေ့မှာအဘယ်မျှလောက်ဖောက်ပြန်၍၊ အမျိုး
မစစ်သော စပျစ်နွယ်ပင် ဖြစ်ပါသည် တကား။–
၂၂ သင်သည် ပေါက်ဆပ်ပြာ နှင့် ရေ ချိုး၍၊ များ
သောဆပ်ပြာအများကိုသုံးသော်လည်း၊ သင်၏
အပြစ်သည် ငါ့ရှေ့မှာ ထင်ရှား သည်ဟု၊ အရှင်
၂၃ ထာဝရဘုရားမိန့်တော်မူ၏။– သင်ကလည်း၊ ငါ
သည် ညစ်ညူးခြင်းမရှိ၊ ဗာလဘုရားတို့ နောက်
သို့မလိုက်ဟု၊ အဘယ်သို့ဆို နိုင်သနည်း။ ချိုင့်
၌ သင်လိုက်သောထမ်းကိုကြည့်ရှုလော့၊ သင်
ပြုသောအမှုတို့ကိုဝန်ခံလော့။ လျင်မြန်စွာပြေး
၍ ဗျည်းထည် တတ်သော ကုလားအုတ်မ ပါတ
၂၄ ကား။– တော၌ကျက်စားလည်၍ ကိလေသာ ရာဂ
စိတ်နှင့်လေကိုရှူတတ်သောမြည်းရိုင်းမ ပါတကား။
အမှိန် ရောက်သော အခါ အဘယ်သူ ဆီးတား
နိုင်သနည်း။ သူကိုရှာဖွေသော၌ အဘယ်သူမျှ
ပင်ပန်းခြင်းကိုမခံရ။ အမှိန်ရောက်သောအခါသူကို
၂၅ တွေ့လိမ့်မည်။– သင်၏ခြေနင်းကို မပျက်စေနှင့်၊
ရေငတ်ခြင်း အကြောင်းကို မပြုနှင့်ဟု ဆိုသော်
လည်း၊ သင် က၊ မျှော်လင့် စရာ မ ရှိ၊ အလျှင်း
မရှိ၊ သူတပါးတို့ကို ငါချစ်၍၊ သူတို့နောက်သို့
၂၆ လိုက်မည်ဟု ပြန်ပြော၏။– ခိုးမိ သော သူ ခိုး
သည် ရှက် သကဲ့သို့၊ ဣသ ရေလ အမျိုး ၏ ရှင်
ဘုရင်၊ မင်းသား၊ ယဇ်ပုရောဟိတ်၊ ပရောဖ[က်]
နှင့်တကွ အမျိုးသားများတို့သည် ရှက်ကြ၏။–
၂၇ သစ်တုံးအား၊ ကိုယ်တော်သည် အကျွန်ုပ်အဖ ဖြစ်
တော်မူ၏ဟူ၍၎င်း၊ ကျောက်အားလည်း၊ ကိုယ်
တော်သည် အကျွန်ုပ်ကို ဖွားမြင်တော်မူပြီဟူ၍
၎င်းဆိုလျှက်၊ စင်စစ်ငါ့ကိုမျက်နှာမပြု၊ ကျောခိုင်း
ကြသော်လည်း၊ အမှု ရောက်လျှင်မူကား၊ ထ
တော်မူပါ၊ အကျွန်ုပ်တို့ကိုကယ်မတော်မူပါဟု
၂၈ လျှောက်တတ်ကြ၏။– ကိုယ်အဖို့သင်လုပ်သော
ဘုရားတို့သည်အဘယ်မှာရှိကြသနည်း။ အမှု
ရောက်သောအခါ သူတို့သည်တတ်နိုင်လျှင် ထ
၍ကယ်ကြပါစေ။ အိုယုဒပြည်၊ သင်သည်မြို့
များအရေအတွက်ရှိသည်အတိုင်း၊ သင်၏ဘုရား
၂၉ များ ရှိပါ သည် တကား။– ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ သင်တို့သည်အဘယ်အကြိုး
အလို့ငှါ ငါနှင့်တရားတွေ့ကြမည်နည်း။ သင်တို့
၃၀ ရှိသမျှသည်ငါ့ကို ပြစ်မှားကြပြီ။– ငါသည် သင်
တို့သားများကို အချည်းနှီးဒဏ်ပေးပြီ။ သူတို့
သည်ဆုံးမခြင်းကိုမခံကြ။ သင်တို့၏ထားသည်လု
ယူဖျက်ဆီးတတ်သော ချင်သေ့ကဲ့သို့၊ သင်တို့၏
ပရောဖက်များကို ဖျက်ဆီးလေပြီ။
၃၀ လာခုဖြစ်သော အမျိုးသားတို့၊ ထာဝရဘုရား
၏ အမိန့်တော်ကို ဆင်ခြင်ကြလော့။ ငါသည်ဣ
သရေလ အမျိုး၌တောကဲ့သို့၎င်း၊ မှောင်မိုက်နိုင်
ငံကဲ့သို့၎င်းဖြစ်ဘူးသလော။ ငါ၏လူတို့က၊ ငါတို့
သည်အရပ်ရပ်သို့ထည်မည်၊ ကိုယ်တော်ထံသို့
နောက်တဖန်မချည်းကပ်ဟု၊ အဘယ်ကြောင့်ဆို
၃၂ ကြသနည်း။– အပျိုမသည် မိမိ၌ ဆင်သောတန်
ဆာကို၎င်း၊ မင်္ဂလာဆောင် သတို့သမီး သည် မိမိ
ခါးပန်းကို၎င်း မေ့လျော့ နိုင်သလော။ သို့သော်
လည်း၊ ငါ၏လူတို့သည် မ ရေ တွက် နိုင်အောင်
များစွာသော ကာလပတ်လုံး ငါ့ကို မေ့လျော့ကြ
၃၃ ပြီ။– သင်သည်ရည်းစားကို ရှာခြင်းငှါ သင်တို့
အဘယ်သို့ ဆေ့တိုက် အထယ် ကြောင့် ပြုပြင်သ
နည်း။ သင်၏အ ပြစ်အကျွမ်းတို့ကို သွေးဆောင်
၃၄ လေပြီတကား။– ထိုမှတပါး၊ အနိုင်အထက်ပြု
သည်ကိုသင်မတွေ့၊ အပြစ်မရှိသောဆင်းရဲသား
တို့ကိုအသေသတ်၍၊ သွန်းသောအသွေးသည်
၃၅ သင်၏အဝတ်စွန်း၌ထင်ရှား၏။– ထိုသို့သောအ
ပြစ်များ ရှိသော်လည်း သင်က၊ ငါ၌ အပြစ်မရှိ
သောကြောင့်၊ ဘုရားသခင်၏အမျက်တော်သည်
ငါ့မှလွှဲသွားလိမ့်မည်ဟု ဆိုပါသည်တကား။ ငါ
၌အပြစ် မရှိ ဟု ဆိုသောကြောင့်၊ သင့်ကို ငါစစ်
၃၆ ကြောစီရင်မည်။– သင်သည်အရပ်ရပ်သို့ပြောင်း
လဲခြင်းငှါ၊ အဘယ်ကြောင့် ဤမျှလောက်လှည့်
လည် သနည်း။ အာရှုရိပြည်ကို ရှက်ကြောက်
သည် နည်းတူ၊ အဲဂုတ္တုပြည်ကို ရှက် ကြောက်
၃၇ လိမ့်မည်။– သင်သည် မိမိလက်ကိုမိမိခေါင်းပေါ်

၂၁တင်လျက်၊ ထိုပြည်မှအဓမ္မနှင်ထွက်သွားရလိမ့်
မည်။ အကြောင်းမူကား၊ သင်မိုက်သော အရာ
ထိုကို ထာဝရ ဘုရားသည် ပယ်တော် မူသော
ကြောင့်၊မိုက်၍အကျိုးကိုမရနိုင်ရာ။

၃

၁ ယောက်ျားစွန့်ပြစ်သော မိန်းမသည်ထွက်သွား
၍၊ အခြားသောသူ၏ မယား ဖြစ်ပြီးမှ၊ အရင်
ထင်သည်ထိုမိန်းမကိုပြန်၍ယူသင့်သလော။ထိုသို့
ပြုသော ပြည်သည် ညစ်ညူးသည် မဟုတ်လော
ဟုဆိုလျှက်ရှိလျက်နှင့်၊ သင်သည် များစွာသော
ရည်းစားတို့နှင့်မှိုဲ၍ မှားယွင်းသော်လည်း၊ ငါ့ထံ
သို့ပြန်လာပါဟု၊ထာဝရဘုရားမိန့်တော်မူ၏။-
၂ မြင့်သောအရပ်များကိုမျှော်ကြည့်၍၊ ထင်မနေ
ဘူးသော အရပ်တစုံ တခုကို ရှာလော့။ အာရပ်
လူသည်တော၌စောင့်သကဲ့သို့၊ သင်သည် ထမ်း
ထိုး၌စောင့်နေ၍၊ မတရားသော မေစုန်အားဖြင့်
၎င်း၊ အဓမ္မအမှုအားဖြင့်၎င်း ပြည်ကိုညစ်ညူးစေ
၃ ပြီ။- မိုဃ်းခေါင်၍ နောက်မိုဃ်းတိုင်အောင် မ
ရွာသော်လည်း၊ သင်သည် ပြည်တန်ဆာနဖူးရှိ
၄ ၍၊ရှက်ခြင်းသတိကိုပယ်ရှားပြီ။-ယခုမှစ၍
သင်က၊အကျွန်ုပ်အဖ၊ကိုယ်တော်သည်အကျွန်ုပ်
အသက်ငယ်စဉ်၊စောင့်မပါပြီဟု ငါ့အားအော်
၅ ဟစ်ပါစေသော။- ဘုရားသခင်သည်အစဉ်အ
မြဲကက်ထွက်တော်မူမည်လော။အဆုံးတိုင်အောင်
အပြစ် ကို မှတ်တော် မူ မည် လောဟု ဆို ပါ စေ
သော။ ထိုသို့ဆိုသော်လည်း၊ တတ်နိုင်သမျှအ
တိုင်းအဓမ္မအမှုကိုပြုပါသည်တကား။
၆ ယောရှိ မင်းကြီး လက် ထက်၊ ထာဝရဘုရား
သည် ငါ့အားမိန့်တော်မူသည်ကား၊ ဖောက်ပြန်
သော ဣသရေလအမျိုးပြုသော အမှုကိုသင်မြင်
ပြီလော။ မြင့်သော တောင် ရှိ သ မျှ အပေါ်သို့
တက်၍၎င်း၊ မိမ်းသောသစ်ပင်ရှိသမျှအောက်၌
၇ ၎င်းပြည်တန်ဆာလုပ်လေပြီ။- သူသည်ထိုအမှု
အလုံးစုံတို့ကို ပြုပြီးမှ၊ ငါ့ထံသို့ပြန်လာပါဟု ငါ
ပြောသော်လည်း၊ သူသည်ပြန်၍မလာ။ထိုအမှု
ကို သူ၏ ညီမ၊ သစ္စာပျက်သော ညီမ ယုဒသည်
ကြည့်မြင်လေ၏။-ဖောက်ပြန်သော ဣသရေလ
သည် မတရားသော မေစုန်ကို ပြု၍၊ မှား ယွင်း
သောအပြစ်များကြောင့်၊ သူနှင့်ငါကွာ၍ ဖြတ်
စာ ကို အပ်သော်လည်း၊ သစ္စာ ပျက်သော ညီမ
ယုဒ သည်လည်း၊ မကြောက်ဘဲ သွား၍၊ ပြည်
၉ တန်ဆာ လုပ်ကြောင်းကို ငါမြင်ရ၏။- သူသည်
မတရားသောမေစုန်ကိုပြု၍ အရှုန်လော်သည်
သောအားဖြင့်ပြည်ကိုညစ်ညူးစေ၍၊ ကျောက်
၁၀ နှင့်၎င်း၊ သစ်တုံးနှင့်၎င်းမှားယွင်းလေ၏။- ထိုမျှ
လောက်အပြစ်ရှိသော်လည်း၊ သစ္စာပျက်သော
ညီမ ယုဒ သည် ငါ့ထံ သို့ စိတ်နှလုံး အကြွင်းမဲ့
ပြန်၍မလာ။ပြန်လာဟန်ဆောင်သည်ဟု၊ ထာ
ဝရဘုရားမိန့်တော်မူ၏။
၁၁ တဖန်ထာဝရဘုရားသည် ငါ့ အား မိန့်တော်မူ
သည်ကား၊ သစ္စာပျက်သောယုဒသည် ဖောက်
၁၂ ပြန်သော ဣသရေလထက် အပြစ်ကြီး၏။- သင်
သည်သွား ၍ မြောက် မျက်နှာသို့ ဟစ် ကြော်ရ
မည် စကား ဟူ မူ ကား၊ ဖိုဖောက်ပြန်သော ဣ
သရေလ၊ပြန်လာပါဟု၊ ထာဝရဘုရားမိန့်တော်
မူ၏။ သင်၌ ငါသည် မျက်နှာ ကြုံးခြင်းကို မပြု။
ကရုဏာစိတ်သလောရှိ၏။အစဉ်အမြဲကက်ထွက်
တတ်သည်မဟုတ်ဟု၊ထာဝရဘုရားမိန့်တော်မူ
၁၃ ၏။- သင်သည်ငါ့စကားကိုနားမထောင်။သင်၏
ဘုရားသခင် ထာဝရဘုရားကို ပြစ်မှား၍၊ မိမ်း
သော သစ်ပင်ရှိသမျှအောက်၌ တွေ့သော ဧည့်
သည်တို့နှင့် မှားယွင်းသောအပြစ်ရှိကြောင်းကို
ဝန်ချရုံမျှသာပြုလော့ဟုထာဝရဘုရားမိန့်တော်
၁၄ မူ၏။- ဖိုဖောက်ပြန်သောသူငယ်တို့၊ ပြန်လာ
ကြလော့ဟု၊ ထာဝရ ဘုရား မိန့်တော် မူ ၏။ ငါ
သည်သင်တို့ကို ရှုံ့ရှာဘူးသော်လည်း၊သင်တို့မြို့
များထဲက တမြို့လျှင်လူတယောက်၊ အမျိုးသား
ချင်းအစုစုထဲကတစုလျှင်လူနှစ်ယောက်ကိုရွေး
၁၅ ယူ၍၊ ဇိအုန်မြို့သို့ပို့ဆောင်မည်။- ငါသည်နှစ်
သက်သောသူတို့ကို သင်းအုပ်အရာ၌ ခန့်ထား
၍၊ သူတို့သည်ဉာဏ် ပညာနှင့် ပြည့်စုံလျက်
၁၆ သင်တို့ကို အုပ်ကြ လိမ့်မည်။- ထိုကာလ တွင်
သင်တို့သည်ပြည်တော်၌ တိုးပွားများပြားသော
အခါ၊ ထာဝရဘုရား၏ ပဋိညာဉ်သေတ္တာတော်
ဟူ၍ နောက်တဖန် မပြောမဆိုရ။ ထိုသေတ္တာ
တော်ကို စိတ် မစွဲလမ်း၊ မအောင်းမေ့၊ မပြုစုရ။
နောက်တဖန်မလုပ်ရဟုထာဝရဘုရားမိန့်တော်
၁၇ မူ၏။- ထိုအခါ ယေရုရှလင်မြို့ကိုထာဝရဘုရား
၏ပလ္လင်ဟူ၍ခေါ်ကြလိမ့်မည်။လူမျိုးအပေါင်း
တို့သည်လည်း၊ ထာဝရဘုရား၏ နာမတော်ကို
အမှီပြု၍၊ ထိုပလ္လင်သို့ စည်းဝေး ကြ လိမ့်မည်။
နောက်တဖန် မိမိတို့၌ဆိုးသော စိတ်နှလုံးမိုက်
၁၈ မာခြင်း သဘော သို့ လိုက် ၍ မ ကျင့် ရ ကြ။- ထို
ကာလ၌ ယုဒအမျိုးသည် ဣသရေလ အမျိုးနှင့်

ပေါ်ပေါ်ခေါ်လျှက်၊ ကြောက်ရွံ့ခြင်းနှင့်အရပ်က တ
စုတည်းသော၍၊သင်တို့ကိုသားများအမွေခံဘို့၊
ငါပေးသနားသော ပြည်သို့ ရောက်ကြစေမည်။-
၁၉ ငါသည် သင့်ကို သားတို့တွင်အထယ်သို့ထားရ
အံ့နည်း၊သာယာသောပြည်၊တိုင်းနိုင်ငံအပေါင်း
တို့၏ အထွတ်၊ ဘုန်းကြီးသော အမွေခံရာ ပြည်
ကိုသင့်အားအထယ်သို့ပေးရအံ့နည်းဟုငါမေး
သောအခါ၊ ထင်သည် ငါ့ကို အကျွန်ုပ်အဘဟူ၍
ခေါ်ရလိမ့်မည်။ ငါ့ထံမှထွက်၍မသွားရဟု ငါ ပြန်
ပြော၏။
၂၀ အိုဣသရေလအမျိုး၊ မယားသည်မိမိခင်ပွန်း
၌ သစ္စာ ဖောက် ထကဲ့ သို့၊ အကယ်စင်စစ် သင်တို့
သည် ငါ၌ သစ္စာ ဖောက်ကြပြီဟု၊ ထာဝရဘုရား
၂၁ မိန့်တော်မူ၏။- ဣသရေလအမျိုးသားတို့သည်
မြင့်သောအရပ်တို့၌ ငိုကျွေး၍ တောင်းပန်သော
အသံကိုငါကြားရပြီ။ အကြောင်းမူကား၊သူတို့
သည် ထမ်း ထွဲ၍၊ မိမိတို့ ဘုရားသခင် ထာဝရ
၂၂ ဘုရားကို မေ့လျော့ကြပြီ။- ဖိုဖောက်ပြန်သော
သူငယ် သင်တို့၊ ပြန်လာ ကြလော့၊ ဖောက်ပြန်
ရာများကို ငါ ပြု ပျောက် မည်။ သူတို့ က ထည်း၊ အ
ကျွန်ုပ် တို့ သည် ကိုယ်တော်ထံသို့ လာကြပါ၏။
ကိုယ်တော်သည်အကျွန်ုပ်တို့၏ဘုရားသခင်ထာ
၂၃ ဝရဘုရားဖြစ်တော်မူ၏။- အကယ်စင်စစ် ကုန်း
များနှင့်တောင်မိုးများတို့သည်အချည်းနှီးသက်
သက်ဖြစ်ကြ၏။ အကယ်စင်စစ် အကျွန်ုပ် တို့၏
ဘုရားသခင် ထာဝရဘုရားသည် ဣသရေလ အ
မျိုးကို ကယ်တင်ရာအကြောင်း ဖြစ်တော်မူ၏။-
၂၄ ရှက်ဖွယ်သော အရာသည် အကျွန်ုပ် တို့၏ ဘိုး
ဘေး ဥစ္စာ တည်းဟူသော သူတို့ သိုးနွား၊ သား
သမီး များကို အကျွန်ုပ်တို့ ငယ်သော အရွယ် က
၂၅ ပင် စား၍ ကုန် ပါ ပြီ။- အကျွန်ုပ် တို့သည် ရှက်
ကြောက်လျှက် အိပ်ရကြ၏။ အသရေပျက်ခြင်း
၌နစ်မွန်းကြ၏။ အကြောင်းမူကား၊ အကျွန်ုပ်တို့
သည် ငယ်သော အရွယ် မှစ၍ ယခု တိုင်အောင်
ဘိုးဘေး နှင့် တကွ အကျွန်ုပ် တို့၏ ဘုရား သခင်
ထာဝရဘုရား၏ စကားတော်ကို နားမထောင်၊
အကျွန်ုပ်တို့၏ဘုရားသခင် ထာဝရဘုရားကိုပြစ်
မှားပါပြီဟု ဆိုကြ၏။

၄

၁ အို ဣသရေလ အမျိုး၊ သင်သည် ပြန်လာလို
လျှင် ငါ့ထံသို့ပြန်လာပါ။ သင်၏ စက်ဆုပ်ဖွယ်တို့ကို
၂ ပယ်လိုလျှင်ငါ့ထံမှမရွေ့ရ။- သင်ကလည်း၊ထာ
ဝရဘုရား အသက် ရှင်တော် မူသည်ဟု၊ သစ္စာ
စောင့်ခြင်း၊ တရား စီရင်ခြင်း၊ ဖြောင့်မတ်ခြင်း
အား ဖြင့် ကျိန် ဆို လိမ့် မည်။ လူ အမျိုးမျိုး တို့
သည်လည်း၊ထိုဘုရားသခင်အားဖြင့် မိမိတို့ကို
ကောင်းကြီး ပေး၍၊ ထို ဘုရား သခင်ကို အမှီပြု
လျှက် ဝါကြွားကြ လိမ့်မည်ဟု၊ ထာဝရဘုရား
မိန့်တော်မူ၏။
၃ ထာဝရဘုရားသည် ယုဒပြည်သူယေရုရှလင်
မြို့သားတို့ အားမိန့်တော်မူသည်ကား၊ သင်တို့၏
လယ်ကိုထွန်ကြလော့၊ဆူးပင်တို့တွင်မျိုးစေ့ကို
၄ မကြဲ ကြ နှင့်။- အို ယုဒ ပြည်သူ ယေရု ရှလင်မြို့
သားတို့၊ ထာဝရဘုရားအဖို့ အလိုငှါ အရေဖျား
လှီးမင်္ဂလာကိုခံ၍၊သင်တို့နှလုံးအရေဖျားကို
လှီးဖယ်ကြလော့၊ သို့မဟုတ်၊ သင်တို့၏အကျင့်
မကောင်းသောကြောင့်၊ ငါ့အမျက်သည်မီးကဲ့သို့
ထွက်၍၊အဘယ်သူမျှမငြိမ်းနိုင်အောင် လောင်
၅ လိမ့်မည်။- ယုဒပြည်၌ တံပိုး မှုတ်ကြလော့ဟူ၊
ယေရုရှလင် မြို့မှစ၍ တပြည် လုံး ကျွေး ကြော်
၍ သိတင်း ကြား ကြလော့၊ စည်းဝေး၍ ခိုင်ခံ့
သော မြို့များ အတွင်းသို့ ဝင်ကြ ကုန်အံ့ဟူ၊ အ
၆ ရပ်ရပ်၌အနှံ့အပြား ကျွေးကြော်ကြလော့။- ဇိ
ယုန်တောင်ပေါ်မှာအလံကိုထူကြလော့၊ ထွက်
အောင် ပြေး ကြ လော့၊ ရပ်၍ မနေ ကြ နှင့်၊ အ
ကြောင်းမူကား၊ ကြီးစွာသောပျက်စီးခြင်းဘေး
ဥပါတ်ကို မြောက် မျက် နှာမှ ငါသည် ဆောင်ခဲ့
၇ မည်။- ခြင်သေ့သည်မိမိနေရာချုံထဲက ထွက်လာ
ပြီ၊ တိုင်းနိုင်ငံတို့ကိုဖျက်ဆီးသောသူသည်ထမ်း
၍လာခဲ့ပြီ။ သင်၏ပြည်ကိုလူဆိတ်ညံ့ရာအရပ်
ဖြစ်စေခြင်းငှါ၊ သူသည် မိမိ နေရာမှ ထွက်လာ
သည်ဖြစ်၍၊ သင်၏မြို့တို့သည်လူမနေနိုင်အောင်
၈ ပျက် စီး ခြင်း သို့ ရောက် ကြ လိမ့် မည်။- ထို အ
ကြောင်းကြောင့်လျှော်တေအဝတ်ကိုဝတ်စည်း
လျှက်၊ငိုကြွေးမြည်တမ်း၍အော်ဟစ်ကြလော့၊
အ ကြောင်း မူ ကား၊ ထာဝရ ဘုရား၏ ပြင်း စွာ
သော အမျက်တော်သည် ငါတို့မှ ထွဲရှောင်၍ မ
၉ သွားသေး။- ထိုအခါ ရှင်ဘုရင်နှင့် မှူးမတ်တို့
သည် စိတ်ပျက်ကြလိမ့်မည်၊ ထိုမှ ပရောဖက်
တို့သည် မိန်းမောတွေဝေလျှက်၊ ပရောဖက် တို့
သည်ထိတ်လန့်လျှက်ရှိကြလိမ့်မည်ဟု၊ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၀ ငါက လည်း၊ အို အရှင် ထာဝရ ဘုရား၊ သန်
လျက်သည်အသက်ကိုထိသည်တိုင်အောင် စွန်း

တော်ထသည်။ ထင်ထိုသည် ဖြစ်သတ်ခြင်း ရှိကြ ထိမ်မည်ထု၊ ကိုယ်တော်သည်မိန့် တော်ရှသော အား၊ ဖြစ်၊ ဤ လူ များ နှင့်တကွ ယေရုရှလင် မြို့ သားတို့ကိုအလွှန်လှည့်စားတော်မူပါပြီတကား၊ ထုလျှောက်ဆိုရ၏။

၁၁ ထိုကာလတွင်ဤလူများနှင့် ယေရုရှလင်မြို့သား တို့ကိုရည်မှတ်၍ဆိုရမည်ကား၊ ပူသောလေသည် တော၌ ပြင့်သော အရပ်က ငါ၏လူမျိုး သတို့သမီး ထံသို့ လာ လိမ့်မည်၊ အမှော်လွင့်စေခြင်း၊ ထန့်

၁၂ ရှင်းစေခြင်းငှါ လာသော လေမဟုတ်၊- ထိုလေ ထက် ပြင်းသော လေသည် င အထံ ကို ပြည့်စုံ စေခြင်း ငှါ လာ လိမ့် မည်၊ ထရ ပင် ငါ သူတို့ ကို င

၁၃ ကိုယ်တိုင် စစ်ကြောစီရင်မည်၊- တသောမင်း သည်မိုဃ်းတိမ်ကဲ့သို့တလာလိမ့်မည်၊သူ၏ရထား တို့သည် လေဘွေကဲ့သို့ ဖြစ်ကြ၏၊ သူ ၏ မြင်းတို့ သည် ရှင်တာထက်သာ၍လျင်မြန်ကြ၏၊ ငါ တို့ သည် အ မင် တာ ရှိ ကြ ၏၊ ပျက် စီး ခြင်း သို့

၁၄ ရောက် ကြပြီ၊- အို ယေရုရှလင် မြို့၊ သင်သည် ကယ်တင်ခြင်းသို့ရောက်ခြင်းငှါ၊သင်၏စိတ်နှလုံး ကိုဆေးကြောလော့၊ အဘယ်မျှကာလပတ်လုံး သင်၏ ဒုစရိုက်အကြံအစည်တို့သည် အထဲ၌ တည်နေရမည်နည်း၊-

၁၅ ဒန်ပြည်၌အသံကိုကြားရ၏၊ ဧဖရိမ်တောင်ပေါ်

၁၆ မှာ ဒုက္ခသိတင်းကို ထင်ကြေငြာ ကြ၏၊- အပြည် ပြည်တို့၌သိတင်းကြားကြလော့၊ယေရုရှလင်မြို့ ကိုရည်မှတ်၍ကျွေးကြော်ကြလော့၊ ကင်းစောင့် တို့သည် ဝေးသောပြည်က လာ၍၊ ယုဒမြို့ များ၊

၁၇ တစက်၌ထူးကြလိမ့်မည်၊-ထယ်ကိုစောင့်သော သူများကဲ့သို့၊ ထိုသူတို့ သည် ယုဒပြည်ကိုဝန်းရံ ကြ၏၊အကြောင်းမူကား၊ ထိုပြည်သည်ငါကိုပုန်

၁၈ ကန်ပြီ၊- သင် ထိုက် သော ထုံးစံ နှင့် သင် ကျင့် သောအကျင့်တို့သည် သင့်အပေါ်မှာ ဤအမှုကို ထင်ရောက် စေပြီ၊ သင်သည် ထိုသို့သော အမှု နှင့်ထွေ၍ ခါးစေသောစိတ်၊နာကျည်းသောစိတ် ရှိရာ၏ထု၊ထာဝရဘုရားမိန့်တော်မူ၏၊

၁၉ ငါ့အသည်းသည်းနာ၏၊ ငါ့အသည်းသည်းနာ၏၊ နှလုံးအရေပြားသည်းနာ၏၊ငါ့အထဲ၌နှလုံး ပူဆွေး၏၊ ငါသည် ထိတ် ဆိတ် စွာ မနေနိုင်၊ အ ကြောင်းမူကား၊ အို ငါ့ဝိညာဉ်၊ သင် ထည် ထံမိုး

၂၀ မှုတ်သံ နှင့်စစ်ထိုက်သံကိုကြားရ၏၊-ပျက်စီးပြီး ပျက်စီး ပြီထု၊ အ ထစ် ထစ် တစ် ကြော် ရ ၏၊ ထ ပြည် လုံး ပျက်စီးပြီ၊ ငါ၏ တဲတို့သည် ခဏချင်း

ပျက် စီးကြ ပြီ၊ ငါ၏ ကုလား ထ တို့ သည်

၂၁ ချက်ချင်းပျက်စီးကြပြီ၊- ငါသည်အဘယ်မျှကာ ထ ပတ်လုံး အထံကို မြင်ရမည်နည်း၊ အ တံပိုးမှုတ် ကာထပတ်လုံးတံပိုးသံကိုကြား ရမည်နည်း၊

၂၂ အကယ်စင်စစ် ငါ၏ လူ တို့သည် ထိုင်းမှိုင်း၍ ငါကိုမသိကြ၊ မိုက်သော သူ ငယ် ဖြစ်၍ ဥာဏ် မရှိကြ၊ မကောင်းသော အမှု ထို၌ လိမ္မာ ကြ၏၊ ကောင်းသောအမှုကိုမပြုတတ်ကြ၊

၂၃ ငါသည် မြေကြီးကို ပြည့်ရှု၍ ထွေး ပြားထစ် ထ တာ ဖြစ် ၏၊ မိုဃ်း ကောင်း ကင် ကို ထည့်၊ ငါ

၂၄ ကြည့်ရှု၍အလင်းမရှိ၊- တောင်တို့ကိုသည်၊ ငါ ကြည့်ရှု၍၊ သူတို့နှင့်တကွ ကုန်းရှိသမျှတို့သည်

၂၅ တုန်လှုပ်လျှက်နေကြ၏၊- ငါကြည့်ရှု၍လူ မရှိ၊ မိုဃ်း ကောင်းကင် ငှက်အပေါင်း တို့သည် ပြေး

၂၆ ကြပြီ၊- ငါကြည့်ရှု၍၊ ဝပြောသော ပြည်သည် တောဖြစ်လေပြီ၊မြို့ရှာတို့သည်ပြိုပျက်လျက်ရှိ ကြ၏၊ ထာဝရဘုရား၏ရှေ့၊ ပြင်းစွာသောအမျက် တော် ရှေ့၌ ထိုသို့ သော အခြင်း အရာ ထို သည် ဖြစ်ရကြ၏၊

၂၇ ထာဝရဘုရားမိန့်တော်မူသည်ကား၊ တပြည်လုံး ပျက်စီးရာ ဖြစ်လိမ့်မည်၊ ပျက်စီးခြင်းကိုငါ အ

၂၈ ဆုံးတော့မ၊- ထိုကြောင့်၊မြေကြီးသည်ညည်းတွား လိမ့် မည်၊ မိုဃ်း ကောင်းကင်ထည်း နတ် ထိမ် မည်၊ငါသည် ပြောပြီး၊ရနောင်တမရှိ၊ ကြံပြီး၍

၂၉ အကြံမပျက်ရ၊- မြင်းစီးသူနှင့်လေးစိုင်းသူ၏ ထို့ထင်သော အသံကြောင့်၊ မြို့သားအပေါင်းတို့ သည် တော ထုတ်သို့ ပြေး ထွား ကြ၏၊ ကျောက် ပေါ်သို့တက်ကြ၏၊ မြို့ရှိသမျှတို့ကို စွန့်ပြစ်၍ နေ

၃၀ သောသူတယောက်မျှမရှိရ၊- သင်သည်ပျက်စီး ခြင်းသို့ ရောက် သော အခါ အဘယ် သို့ ပြု ထိမ့် မည်နည်း၊ နီသောအဝတ်ကို ဝတ်ဆောင် ၍၊ရွှေတန်ဆာကိုဆင်ထော်၍၊ သင်၏မျက်နှာ စုတ်ပဲ့ ထည် ထိုင် လောင် ဆေး လူတ် သော်၍၊ သင်၏တင့်တယ်ခြင်းကိုအချည်းနှီးပြု၏၊သင်၏ ရည်းစားတို့သည်သင့်ကိုစွန့်၍၊သင်၏အသက်

၃၁ ကို သတ်ခြင်းငှါ ရှာကြံ ကြ၏၊- အကယ် စင်စစ် သားဖွားသောမိန်းမည်းသံ၊ သားဦးဖွားသော မိန်းမ၏ ဝေဒနာခံရာအသံကဲ့ သို့၊ ဇိအုန် သတို့သမီး ဖော်တစ်သံကို ငါကြားရ၏၊ ထိုသတို့သမီး ထား အကျွန်ုပ်ဘည် ထမင်းထာ၍ ပါ၏၊ လူသတ်သူ များ ကြောင့်၊အကျွန်ုပ်စိတ်ပျက်ပါ၏ဟု၊မြည်တမ်းလျက် ကိုဖြန့်၍ငိုကြွေးလျှက်နေ၏၊

၅

၁ ယေရု ရှလင်မြို့ကို အခြင်း ၅ ငါ လွှတ် စည့်အ
ကြောင်း၊တရားသဖြင့်ကျင့်သောမြို့သား၊ထ ဉာ
ဏ ခင့်သော မြို့သား၊ တစုံတယောက်မျှ ရှိလျှင်၊
ထို သူကို တွေ့ထွံ့သောငှါ၊ မြို့ လမ်းတို့၌ တောင်
မြောက် ပြေး၍၊ ကျယ်သော အရပ်တို့၌ ရှာ ဌွေ
၂ ကြည့်ရှုကြလော့။- သူတို့က၊ ထာဝရဘုရားအ
သက် ရှင်တော် မူ သည်ဟု ဆိုသော်လည်း၊ အ
ကယ်စင်စစ်မထုတ်မဖွံ့ ကျိန် ဆိုတတ်ကြ၏။
၃ အို ထာဝရ ဘုရား၊ ကိုယ် တော် သည် သစ္စာ
တရားကိုထောက် ရှုတော်မူသည် မဟုတ်လော။
ကိုယ်တော်သည် ဒဏ်ခတ်တော်မူသော်လည်း၊
သူတို့သည် ညှိုးငယ်သောစိတ် မရှိကြပါ။ ဖျက်
ဆီးတော်မူသော်လည်း၊သူတို့သည်ဆုံးမခြင်းကို
ငြင်း ပယ် ကြပါပြီ။ မိမိတို့ မျက်နှာကို ကျောက်
ထက် သာ၍မာစေကြပါပြီ။ ငါတို့သည် ပြန်၍မ
၄ လာလိုခြင်းဆန့်ကျင်နေကြပါပြီ။- ငါကလည်း၊
အကယ် စင်စစ် ဤသူတို့သည် ဆင်းရဲသား ဖြစ်
ကြ၏။ ထာဝရဘုရား ၏ တရားတော်ကိုငှင်၊ မိမိ
တို့ဘုရားသခင်စီရင်တော်မူရာကိုငှင် မသိသော
၅ ကြောင့်မိုက်ကြ၏။-လူကြီးများထံသို့ငါသွား၍
ပြောမည်။ သူတို့သည် ထာဝရဘုရား၏ တရား
တော်ကိုငှင်၊ မိမိတို့ ဘုရားသခင်စီရင်တော်မူရာ
ကိုငှင် သိကြ၏ ဟု ဆိုသော်လည်း၊ သူတို့သည်
ထမ်းထိုးတော်ကို ချိုး၍၊ အနှောင်အဖွဲ့တော်တို့
၆ ကိုဖြတ်ကြပြီ။-ထိုကြောင့်၊တောမှထွက်သောချင်
သေ့သည် သူတို့ကို သတ် လိမ့် မည်။ ညဦး ယံ၌
ထွက်တတ်သော တောခွေးသည် သူတို့ကို ကိုက်
စားလိမ့်မည်။ကျားသစ်သည်သူတို့မြို့ကိုစောင့်
၍၊ မြို့ပြင်သို့ထွက်သွားသော သူအပေါင်းတို့ကို
အပိုင်းပိုင်း ကိုက်ဖြတ် လိမ့်မည်။ အကြောင်းမူ
ကား၊ သူတို့ပြစ်မှားသောအပြစ်များ၍၊ အကြိမ်
ကြိမ်အထပ်ထပ်လောက်ပြန်ကြပြီ။
၇ ထိုသို့ သော အ ပြစ်မှ သင့်ကို အ ဘယ်သို့ ငါ
လွှတ်နိုင်သနည်း။ သင်၏သားသမီးတို့သည် ငါ့ကို
စွန့်၍၊ ဘုရား မဟုတ် သော သူတို့ကို တိုင်တည်
လျက် ကျိန်ဆိုကြပြီ။ ငါသည် ဝစွာကျွေးသော
အခါ သူတို့သည်ပြည်တန်ဆာဖိပ်၌စည်းဝေး
၈ ၍မှားယွင်းကြပြီ။- ဝစွာစားရသော မြင်းကဲ့သို့
ဖြစ်၍၊ အသီး အသီး အိမ်နီးချင်း မယားတို့ကို
၉ တပ် သော စိတ် နှင့် ဟီကြပြီ။- ထိုသို့ သော အ
ပြစ်တို့ကိုငါသည်မစစ်ကြောဘဲနေရမည်လော။
ထိုသို့သော အမျိုးကို ဒဏ်မပေး၍၊ ငါ့စိတ် ကျင်ရှ
မပြေဘဲ ရှိ ရ စည် လော ဟု၊ ထာဝရဘုရား မိန့်
တော်မူ၏။
၁၀ မြို့ရိုးပေါ်သို့တက်၍ဖျက်ဆီးကြလော့။ ပျက်
စီး ခြင်းကို စ စဲ စေကြနှင့်၊ မြေထက် ထိုကို ဖယ်
ရှင်းကြလော့။ ထာဝရဘုရား ပိုင်တော် မဟုတ်-
၁၁ ဣသရေလအမျိုးနှင့် ယုဒအမျိုးတို့သည် ငါ့ကို
ခံဘူးသောသစ္စာကိုဖျက်ကြပြီဟုထာဝရဘုရား၊
၁၂ မိန့်တော်မူ၏။- သူတို့က၊ ထာဝရဘုရားမဟုတ်၊ ငါ
တို့အပေါ်၌ ဘေးဥပါဒ်မရောက်ရ၊ ထားဘေး
ငတ်ဘေးကို ငါ တို့သည်မတွေ့ရကြ။-
၁၃ ပရောဖက်တို့သည် လေ သက်သက် ဖြစ်ကြ၏။
သူတို့၌ နှုတ်ကပတ်တော်မရှိ၊ သူတို့ပြောပြော
သည် အ တိုင်း သူတို့ ခံရ လိမ့် မည်ဟု၊ ထာဝရ
၁၄ ဘုရားကိုငြင်းပယ်လျက် ဆိုတတ်ကြ၏။-သို့ဖြစ်
၍ ကောင်းကင် ဗိုလ်ခြေအရှင်ဘုရားသခင် ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သူတို့သည်ထို
သို့ဆိုသောကြောင့်၊ စကားကိုသင်၏နှုတ်၌မီး
ကဲ့သို့၎င်း၊ ဤလူမျိုးကိုထင်းကဲ့သို့၎င်းငါဖြစ်စေ၍
၁၅ သူတို့ကို မီးလောင်ရလိမ့်မည်။- ထာဝရဘုရား
မိန့်တော်မူသည်ကား၊ အို ဣသရေလအမျိုး၊ သင့်
ကိုတိုက်စေခြင်းငှါ လူတမျိုးကို ဝေးသောအရပ်ကငါ
ဆောင်ခဲ့မည်။ အားကြီးသောအမျိုး၊ ရှေးကာလ
၌ဖြစ်ဘူးသောအမျိုး။ သူတို့စကားကို သင်မသိ
၁၆ နားမလည် သော အမျိုး ဖြစ် လိမ့် မည်။- သူတို့
မြှားတောင့်သည်ဖွင့်ထားသောသင်းချိုင်းတွင်း
ဖြစ်၏။ ထိုသူ အပေါင်း တို့ သည် ခွန် အား ကြီး
၁၇ သောသူဖြစ်ကြ၏။- ထိုသူတို့သည်သင်၏အသီး
အနှံ နှင့် သင်၏ ရိက္ခာကို စားကြ လိမ့်မည်။ သင်၏
သား သမီး တို့ကိုလည်း စားကြ လိမ့်မည်။ သင်၏
သိုး နွား တို့ကိုလည်း စားကြ လိမ့်မည်။ သင်၏
စပျစ်နွယ်ပင် နှင့်သင်္ဘောသဖန်းပင်တို့ကိုလည်း
စား ကြ လိမ့် မည်။ သင်မှီခို၍ ခိုင်ခံ့သော မြို့တို့
၁၈ ကိုလည်းတိုက်၍ လုပ်ကြံကြလိမ့်မည်။- သို့ရာ
တွင်၊ ထိုကာလ၌ ငါသည် သင်၏အမှုကို မဆုံး
၁၉ ဖြတ်သေးဟုထာဝရဘုရားမိန့်တော်မူ၏။-သူတို့
ကလည်း၊ငါတို့ဘုရားသခင်ထာဝရဘုရားသည်၊
ငါ တို့၌ ဤအမှု အလုံးစုံ တို့ကို အဘယ် ကြောင့်
စီရင်တော်မူသနည်းဟုမေးကြသောအခါ၊ သင်
တို့သည် ငါ့ကို စွန့်ပြစ်၍၊ ကိုယ်ပိုင်သောပြည်၌
တကျွန်းတနိုင်ငံဘုရားတို့၏ အမှုကို ဆောင်ရွက်
သကဲ့သို့၊ကိုယ်မပိုင်သောပြည်၌အကျွန်းတနိုင်ငံ

သား၊ ထို့၏အမှုကို ဆောင်ရွက်ရကြလိမ့်မည်ဟု၊
သင်သည်သူတို့အား ဆင့်ဆိုရမည်။
၂၀ ယာကုပ် အမျိုးနေရာ ယုဒပြည်၌ ဟောပြော
၂၁ ကျွေးကြော်ရမည်မှာ၊- အိုမျက်စိ ရှိလျက်နှင့်မ
မြင်၊ နားရှိလျက်နှင့် မကြား၊ ညာဏ် မဲ့သော လူ
၂၂ မိုက်တို့၊ နားထောင်ကြလော့။- ထာဝရဘုရား
မိန့် တော် မူ သည် ကား၊ ပင် လယ် မ လွှန် နိုင်
အောင် ဆီးတားဖို့ရာ သဲကို ထာဝရ အပိုင်း အ
ခြားခန့်ထားသောငါကို သင်တို့သည်မကြောက်
ကြသလော။ ငါ၏ ရှေ့တော်၌ မတုန်လှုပ် ကြသ
လော။ ပင်လယ်လှိုင်းတံပိုးတို့သည် ထ၍မနိုင်၊
၂၃ ဟုန်း၍ မကျော် မလွှန် နိုင် သော်လည်း၊- ဤလူ
မျိုးသည် ပြစ်မှား ပုန်ကန် သော သဘော ရှိ၍၊
၂၄ အစဉ်ပုန်ကန်တတ်ကြ၏။- အချိန်တန်မှအရင်
မိုးဃ်းနှင့်နောက်မိုးဃ်းကိုရွာစေ၍၊ အသီးအနှံ
သိမ်းမြိ သိမ်းရာ ကာလကို ငါတို့ အဖို့ သိုထား
တော်မူသောငါတို့၏ဘုရားသခင် ထာဝရဘုရား
ကိုယာခု ကြောက်ကြကုန်အံ့ဟု၊ သူတို့သည်စိတ်
၂၅ နှစ် လုံး ထဲ၌ မ ဆို တတ် ကြ။- သင်တို့ ဒုစရိုက်
သည် ထို သို့သော အရာ တို့ကိုလွှဲ၍၊ သင်တို့ အ
ပြစ်သည်သင်တို့၏မင်္ဂလာကို ဆီးတားလေပြီ။-
၂၆ ဝပ်လျက် နေ သော မု ဆိုးကဲ့သို့ ချောင်း မြောင်း
သောလူ ဆိုးတို့သည်ငါ၏လူ တို့တွင်ရှိကြ၏။ လူ
တို့ကိုထောင်ခြင်းငှါ ထောင်ချောက်ကို ထားကြ
၂၇ ပြီ။- ငှက်ထောင်အိမ်သည် ငှက်တို့နှင့် ပြည့်သ
ကဲ့သို့၊ သူတို့အိမ်သဉ် လှည့်စားခြင်းပရိယာယ်
နှင့်ပြည့်၏။ ထိုသို့သူတို့သည် အားတိုးပွား၍ ရ
၂၈ တတ် ခြင်း သို့ရောက် ကြ၏။- ဝလျက်၊ မျက်နှာ
ပြောင်လျက်ရှိကြ၏။ ဆိုးသော သူတို့ထက် သာ
၍ ဆိုးကြ၏။ တရားသဖြင့် မစီရင်ကြ။ မိဘမရှိ
သောသူငယ်၏အမှုကိုစောင့်၍ အနိုင်မပေးကြ။
ဆင်းရဲ သောသူ ထက်၌တရားသဖြင့်မစီရင်ကြ။-
၂၉ ထိုသို့သော အပြစ်တို့ကို ငါသည် မစစ်ကြောဘဲ
နေရမည်လော။ ထိုသို့သောအမျိုးကို ဒဏ်ပေး
၍၊ ငစိတ်ချင်ရဲ မပြေဘဲနေရမည်လောဟု၊ ထာ
ဝရဘုရားမိန့်တော်မူ၏။
၃၀ အံ့ဩစွာ ရွံရှာဖွယ်သော အမှုကိုပြည်တော်
၃၁ ၌ပြုကြ၏။- ပရောဖက်တို့သည်မဟုတ်မှန်ဟော
ပြောကြ၏။ ယဇ်ပုရောဟိတ်တို့သည်ဝန်ခံ၍အ
စိုးရကြ၏။ ထိုသို့သောအမှုကို ငါ၏ လူတို့သည်
နှစ်သက်ကြ၏။ ထိုအမှု ဆုံးသောအခါ သင်တို့
သည်အဘယ်သို့ပြုကြလိမ့်မည်နည်း။

၆

၁၊၂ အိုဗင်္ယာမိန်အမျိုးသားတို့၊ ယေရုရှလင်မြို့ထဲ
က ထွက်၍၊ လွတ် အောင် ပြေး ကြ လော့။ တေ
ကောရွာ၌ တံပိုးမှုတ်ကြလော့။ ဗေသဟက္ကရင်ရွာ
၌မီး ရှူးကို မြှောက်၍ ပြကြလော့။ အကြောင်းမူ
ကား၊ တေားဥပါတ်တဦးဟူသော၊ ကြီးစွာသော
ပျက်စီးခြင်းအကြောင်းအရာသဉ် မြောက်မျက်
၃ နှာက ပေါ်လာ၏။- အဆင်းလှ၍ နူးညံ့ သိမ်မွေ့
သော သူတည်း ဟူသော ဇိအုန် သတို့ သမီးကိုငါ
၄ ဖျက်ဆီးမည်။- သိုးထိန်းတို့သည် သိုးစုများပါ
လျက်သူထံသို့လာ၍၊ သူတဖက်ပတ်လည်၌ထဲ
ဆောက်၍၊ အသီး အသီး မိမိတို့ နေရာမှာ ကျက်
၅ စားကြ လိမ့်မည်။- သူကို စစ်တိုက်ခြင်းငှါ ဖွင်
ကြလော့။ထကြ။ မွန်းတည့်အချိန်၌ တက်သွား
ကြကုန်အံ့။ ငါတို့၌ခက်လှ၏။ မွန်းလွဲပြီ။ မိုဃ်း
၆ ချုပ်လေပြီ။- ထကြ။ ညည့်အခါ တက်သွား၍၊
သူ၏ ဘုံဗိတ်မှန်တို့ကို ဖျက်ဆီးကြကုန်အံ့ဟု ဆို
၇ ကြလိမ့်မည်။- ကောင်းကင်ဗိုလ်ခြေအရှင် ထာ
ဝရဘုရား မိန့်တော် မူသည်ကား၊ သစ်ပင် တို့ကို
ခုတ် လှည်း ကြလော့။ ယေရုရှလင် မြို့ တဖက်၌
မြေမိုးကို ဖို့ကြလော့။ ဤမြို့သဉ်ဆုံးမစရာကောင်း
သောမြို့ဖြစ်၏။ မြို့ထဲ၌ညှဉ်းဆဲခြင်းသက်သက်
၈ ရှိ၏။- စမ်းရေပေါက် ဝမှ ရေသည် စီး ထွက်သ
ကဲ့သို့၊ ထိုမြို့သည်ဒုစရိုက်ကို ထွက်စေတတ်၏။
မြို့ထဲ၌လုယူဖျက်ဆီးခြင်းအသံကိုကြားရ၏။အ
နာများနှင့်ဒဏ်ချက် ရာများကို အစဉ်ငါမြင်ရ
၉ ၏။- အိုယေရုရှလင်မြို့၊ ဆုံးမခြင်းကိုခံလော့။ သို့
မဟုတ်၊သင့်ကိုငါ ရွံရှာမည်။သင့်ကိုပယ်ရှင်း၍
၁၀ လူဆိတ်ညံရာအရပ် ဖြစ်စေမည်။- ကောင်းကင်
ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်တော် မူသည်
ကား၊ စပျစ်နွယ်ပင်၌ အကျန်အကြွင်းကို ထိုက်
၍ ဆွတ် သကဲ့သို့၊ ထို သူတို့သည် ဣသရေလ၌
ကျန် ကြွင်းသော အရာကိုလိုက်၍ အကုန်အစင်
ဆွတ် ကြလိမ့်မည်။ စပျစ်သီး ဆွတ်သော သူကဲ့
သို့၊ သင်၏ လက်ကို ခြင်း တောင်း ထဲ သို့ တဖန်
၁၁ သွင်းဦးလော့။- သူတို့သည် နားထောင်မည့်အ
ကြောင်း၊ အ ဘယ်သူကို ငါပြော၍ သတိ ပေးရ
မည်နည်း။ သူတို့နားသည်အရေဖျားလှီးခြင်းမ
ခံသော နားဖြစ်၍၊ သူတို့သည် နားမထောင်နိုင်
ကြ။ ထာဝရဘုရား၏နှုတ်ကပတ်တော်သည်သူ
တို့ကဲ့ရဲ့စရာဖြစ်၏။ ထိုနှုတ်ကပတ်တော်ကိုမနှစ်
၁၁ သက်ကြ။- ထိုကြောင့်၊ ငါသည်ထာဝရဘုရား၏

ဖေမျက်တော်နှင့် ပြည့်ဝ၏။ အောင့်၍ မနေနိုင်။
ထမ်း၍ ရှိသောသူငယ်များနှင့်စုဝေးသောလူပျို
များအပေါ်သို့အမျက်တော်ကိုငါသွန်းလောင်း
မည်။ ထင်မယားအစုံကိုဎင်၊ အသက်ကြီးသော
သူနှင့်အိုလွန်းသောသူကိုဎင် သိမ်းသွားမည်။-
၁၂ သူတို့အိမ်နှင့်တကွလယ်ယာ၊ မိမ္မတို့သည်သူတ
ပါးလက်သို့ ရောက်ကြ လိမ့်မည်။ အကြောင်းမူ
ကား၊ ပြည်သူပြည်သားတို့ကို ငါ၏လက် ခတ်မည်
၁၃ ဟု၊ ထာဝရဘုရား မိန့် တော် မူ၏။- အငယ်ဆုံး
သောသူမှစ၍ အကြီး ဆုံး သော သူ အပေါင်းတို့
သည် မတရားသော စီးပွားကို ရှာကြ၏။ ပရော
ဖက် မှ စ၍ ယဇ် ပရောဟိတ် ရှိ သ မျှ တို့ သည်
၁၄ စုသာကိုသုံးကြ၏။-ချမ်းသာ မရှိသောအခါချမ်း
သာ၊ ချမ်းသာ ဟု ပြော ဆို လျက်၊ ငါ၏ လူမျိုး
၁၅ သတို့သမီး အနာကို ပေါ့လျော့စွာ ကုကြ၏။- သူ
တို့ သည် ရှုံရှာဖွယ်သော အမှုကို ပြုပြီးမှ ရှက်
ကြသလော။အလျှင်းမရှက်ကြ။ မျက် နှာမပျက်
တတ် ကြ။ ထိုကြောင့်၊ တ ယောက် နောက် တ
ယောက်လဲကြလိမ့်မည်။ငါစစ်ကြောသောအခါ
နှိမ့် ချ ခြင်းသို့ ရောက် ကြ လိမ့် မည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၆ ထာဝရဘုရား မိန့်တော် မူသည်ကား၊ ထမ်း
နား မှာ ရပ် ၍ ကြည့် ရှု ကြ လော့။ ရှေး ထမ်း
ဟောင်းတို့ကိုရှာဖွေလျက်၊ ကောင်းသောလမ်း
သည် အဘယ်မှာရှိသနည်းဟု မေးမြန်း၍၊ ထို
လမ်းသို့လိုက်ကြလော့။ သို့ပြုလျှင်၊ စိတ်နှစ်လုံး
သက်သာ ကြလိမ့်မည်။ သို့ရာတွင်၊ ငါတို့သည်
၁၇ မလိုက်ဟုပြန်ပြောကြ၏။- ငါကလည်း၊ တံပိုး
မှုတ်သံကိုနားထောင်ကြလော့ဟုဆိုလျက်၊ သင်
တို့အပေါ်၌ ကင်းစောင့် တို့ကို ခန့်ထားသောအ
ခါ၊ ငါတို့သည်နားမထောင်ဟုပြန်ပြောကြ၏။-
၁၈ ထိုဖြစ်၍၊ အိုတပါး အမျိုး သားတို့၊ နားထောင်
ကြလော့။ တပါး အမျိုး သားတို့တွင် ရှိနေသော
၁၉ ပရိသတ် တို့၊ သိမှတ် ကြ လော့။- အို မြေကြီး
သားတို့၊ နားထောင်ကြလော့။ ဤလူမျိုးသည် ငါ
စကားကိုနားမထောင်၊ ငါတရားကိုလည်း ငြင်း
ပယ်သောကြောင့်၊ သူတို့အလို အလျောက် ကြံ
စည်ခြင်းအကျိုးအပြစ်တည်းဟူသော၊ ကြီးစွာ
သော ဘေးဥပါဒ်ကို၊ သူတို့ အပေါ်သို့ ငါသက်
၂၀ ရောက်စေမည်။- ရှေဘပြည်မှလောဗန်ကိုဎင်၊
ဝေးသော ပြည်မှ မွှေးသောကြံကိုဎင်၊ အဘယ်
ကြောင့် ငါထံသို့ ဆောင်ခဲ့သနည်း။ သင်တို့မီးရှို့
ရာယဇ်တို့ကိုငါအလိုမရှိ။ ပူဇော်သောယဇ်အ
၂၁ မျိုးမျိုးကိုငါမနှစ်သက်။-ထိုအကြောင်းကြောင့်
ထာဝရဘုရား မိန့်တော်မူသည်ကား၊ ထိမိ၍လဲ
စရာတို့ကိုဤလူမျိုးရှေ့မှာငါထားမည်။ အဖ နှင့်
သား တို့သည် ထိမိ၍ လဲကြ လိမ့်မည်။ အိမ်နီး
ချင်းနှင့်အဆွေခင်ပွန်းတို့သည်အတူပျက်စီးကြ
၂၂ လိမ့်မည်။- ထာဝရဘုရား မိန့်တော်မူသည်ကား၊
လူမျိုး တမျိုး သည် မြောက် မျက် နှာ မှ ပေါ်လာ
လိမ့်မည်။ ကြီးစွာသောလူမျိုးကို မြေကြီး စွန်းမှ
၂၃ ငါ နှိုးဆော်မည်။- လေးနှင့် လှံတို့ကို လက်စွဲကြ
၏။ ကြမ်းကြုတ်သော အမျိုးဖြစ်၍၊ သနားခြင်း
ကရုဏာမရှိ။ သူတို့စကားသံ သည်သမုဒ္ဒရာမြည်
သံကဲ့သို့ ဟုန်းတတ်၏။ အိုဇိအုန်သတို့သမီး၊ စစ်
သူရဲ ကဲ့သို့တပ်ခင်း ကျင်းလျက် မြင်းစီး၍၊ သင်
၂၄ ရှိရာသို့ ချီလာကြလိမ့်မည်။- ထိုသိတင်းကို ငါ
တို့ သည် ကြား၍ လက် အား လျော့ကြ၏။ ဒုက္ခ
ဆင်းရဲ ကိုဎင်၊ သား ဖွားသောမိန်း ခံရသကဲ့သို့
၂၅ ပြင်းစွာသောဝေဒနာကိုဎင်ခံရကြ၏။- တောသို့
မထွက်ကြနှင့်။ လမ်းမှာ မသွားကြနှင့်။ ရန်သူ၌
၂၆ ထားပါ၏။ အရပ်ရပ်၌ဘေးရှိ၏။- အိုငါ၏လူမျိုး
သတို့သမီး၊ လျှော်တေအဝတ်ကိုဝတ်စည်း၍ပြာ၌
လူးလည်းလော့။ တယောက်တည်းသော သား
သေသည်ကိုငိုကြွေးသကဲ့သို့၊ ငိုကြွေး၍ပြင်းစွာ
မြည်တမ်းလော့။ လုယူဖျက်ဆီးသော သူသည်
ငါတို့ကိုချက်ချင်းတိုက်လိမ့်မည်။
၂၇ သင်သည်ငါ၏လူမျိုးကျင့်သောအကျင့်စလေ့
တို့ကိုစစ်၍ သိမည် အကြောင်း၊ စစ်သောသူအ
၂၈ ရာ၌ရဲ တိုက်ကဲ့သို့ သင့်ကိုငါခန့်ထား၏။- ထိုသူ
အပေါင်းတို့သည် အလွန် ဖောက် ပြန်သော သူ၊
ကုန်းတိုက်တတ်သောသူဖြစ်ကြ၏။ ကြေးဝါနှင့်သံ
သက်သက်၊ ဖျက်တတ်သော အရာ သက်သက်
၂၉ ဖြစ် ကြ၏။- ဖိုကိုမီးလောင်ပြီ။ ခဲလည်း ကုန်ပြီ။
စစ်သောသူသည်မှုတ်၍အကျိုးကိုမရ။ ညစ်သော
၃၀ အရာကို မထုတ် မပယ် နိုင်။- ထို သူတို့ကို ပယ်
သောငွေဟူ၍ ခေါ်ရမည်။ ထာဝရဘုရား သည်
ပယ်တော်မူ၏။

## ၇

၁ ထာဝရဘုရား၏ အထံတော်က နှုတ် ကပတ်
တော်သည်ယေရမိသို့ရောက်လာ၍၊ သင်သည်
ဗိတ်မှန်တော်တံခါး၌ ရပ်လျက်ကြွေး ကြော်ရ
၂ မည်စကားဟူမူကား၊- ထာဝရဘုရားကို ကိုး
ကွယ်ခြင်းငှါ၊ ဤတံခါးတို့အတွင်းသို့ ဝင်သော

ယုဒ အမျိုးသား အပေါင်းတို့၊ ထာဝရဘုရား၏
၃ နှုတ်ကပတ်တော်ကို နားထောင်ကြလော့။- ဣ
သရေလအမျိုး၏ဘုရားသခင်၊ ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
သင်တို့ထားသောလေ့နှင့် သင်တို့အကျင့်များတို့
ကိုပြုပြင်ကြလော့။ ထိုသို့ပြုလျှင်သင်တို့ကိုဤအရပ်
၄ ၌ငါနေစေမည်။- ဤသည်ကား၊ ထာဝရဘုရား၏
ဗိမာန်တော်၊ ထာဝရဘုရား၏ ဗိမာန်တော်၊
ထာဝရဘုရား၏ဗိမာန်တော်ဖြစ်သတည်းဟု၊
မုသာစကားကိုပြောသောသူတို့၌မမှီခိုကြနှင့်။-
၅ သင်တို့ထားသောလေ့နှင့် သင်တို့အကျင့်များတို့
ကိုစုံလင်စွာပြုပြင်လျှင်၎င်း၊ အမှုသည်ချင်းတို့ကို
၆ သောဖြောင့်စွာ တရားသဖြင့် စီရင်လျှင်၎င်း၊- ဧည့်
သည်အာဂန္တု၊ မိဘမရှိသောသူငယ်၊ မုဆိုးမ ကို
မညှဉ်းဆဲ၊ အပြစ်မရှိသောသူ၏အသက်ကိုဤ
အရပ်၌မသတ်၊ ကိုယ်အကျိုးကိုဖျက်၍၊ အခြား
တပါးသောဘုရားတို့ကို မရှည်းကပ်ဘဲနေလျှင်
၇ ၎င်း၊- သင်တို့ဘိုးဘေးတို့အား၊ ငါသည်အစဉ်မ
ပြတ်ပေးသောပြည်တည်းဟူသော ဤအရပ်၌
၈ နှင့်သင်တို့ကိုငါနေစေမည်။- အကျိုးမရှိဘဲမုသာ
စကားကို ပြောသော သူတို့၌ သင်တို့သည် မှီခို
၉ ကြ၏။- သင်တို့သည်သူ့ဥစ္စာကိုခိုးလျက်၊ လူအ
သက်ကိုသတ်လျက်၊ သူ့မယားကိုပြစ်မှားလျက်၊
မဟုတ်မမှန်ဘဲကျိန်ဆိုလျက်၊ ဗာလဘုရားရှေ့၌
နံ့သာပေါင်းကိုမီးရှို့လျက်၊ ကိုယ်မသိဘူးသော
အခြား တပါး သော ဘုရားတို့ နောက်သို့ လိုက်
၁၀ လျက် နှင့်၊- ငါ၏ နာမဖြင့် သမုတ်သော ဤအိမ်
တော်၌၊ ငါ့ရှေ့မှာဝင်၍ ရပ်လျက်၊ ဤရွံရှာဖွယ်
သော အမှု အလုံးစုံတို့ကို ပြုသောကြောင့်၊ အ
ကျွန်ုပ်တို့သည်ကယ်နှုတ်တော်မူခြင်း၊ ကျေးဇူး
တော်ကိုခံရပါပြီဟု လျှောက်ရကြမည် လော။-
၁၁ ငါ၏နာမဖြင့်သမုတ်သော ဤအိမ်တော်ကို၊ သင်
တို့သည်ဓားပြတွင်းကဲ့သို့ထင်ကြသလော။ ဤ
အမှုကိုငါကိုယ်တိုင်မြင်ပြီဟု၊ ထာဝရဘုရားမိန့်
၁၂ တော်မူ၏။- ရှေးဦးစွာ ငါ၏ နာမကို ငါတည်စေ
သောအရပ်၊ ရှိလောရွာ၌ရှိသောငါ့အရပ်သို့
သွား၍၊ ငါ၏အမျိုး ဣသရေလ လူတို့၏ အပြစ်
ကြောင့်၊ ထိုအရပ်ကိုအဘယ်သို့ငါပြုဘူးသည်ကို
၁၃ ကြည့်ရှုကြလော့။- ယခုတွင် ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင်တို့သည် ဤအမှုအလုံး
စုံတို့ကိုပြုသောကြောင့်၎င်း၊ ငါသည်စောစောထ
၍ အထပ်ထပ်ပြောသော်လည်း၊ သင်တို့သည်
နားမထောင်၊ ငါခေါ်၍သင်တို့သည်မထူးသော
၁၄ ကြောင့်၎င်း၊- ရှိလောရွာကို ငါပြုသကဲ့သို့၊ ငါ၏
နာမဖြင့်သမုတ်သော၊ သင်တို့ကိုးစားသောဤအိမ်
တော်၊ သင်တို့နှင့်ဘိုးဘေးတို့အား ငါပေးသော
၁၅ အရပ်ဌာနကို ငါပြုမည်။- သင်တို့ညီအစ်ကို ဧ
ဖရိမ်အမျိုးသားရှိသမျှတို့ကို ငါနှင်ထုတ်သကဲ့
သို့၊ သင်တို့ကိုငါ့ထံမှငါနှင်ထုတ်မည်။
၁၆ သင်သည်လည်း၊ ဤလူမျိုးအဖို့ပဌနာမပြုနှင့်။
သူတို့အဖို့ အော်ဟစ်ခြင်း၊ ဆုတောင်းခြင်းကို
မပြုနှင့်။ ငါ့ကိုမသွေးဆောင်နှင့်။ သင်၏စကားကို
၁၇ ငါနားမထောင်။- သူတို့သည်ယုဒမြို့များ၊ ယေရု
ရှလင်လမ်းများတို့၌ပြုကြသောအမှုကိုမမြင်သ
၁၈ လော။- ငါ့ကိုနှောင့်ရှက်မည်အကြောင်းနှင့်၊ ကောင်း
ကင် မိဖုရား အဖို့ မုန့်ပြားတို့ကိုလုပ်၍၊ အခြား
တပါးသော ဘုရားတို့ ရှေ့မှာ သွန်းလောင်းရာ ပူ
ဇော်သကာကိုပြုခြင်းငှါ၊ သားတို့သည်ထင်းခွေ
ကြ၏။ အဖတို့သည်မီးထည့်ကြ၏။ မိန်းမတို့သည်
၁၉ မုန့်နယ်ကြ၏။- ထိုသို့ပြု၍ငါ့ကိုနှောင့်ရှက်ကြသ
လော။ မိမိတို့မျက်နှာကို ဖျက်မည်အကြောင်း၊
မိမိတို့ကိုယ်ကိုသာ နှောင့်ရှက်ကြသည်မဟုတ်
၂၀ လောဟု၊ ထာဝရဘုရားမိန့်တော်မူ၏။- သို့ဖြစ်
၍၊ အရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
ဤအရပ်၌ရှိသောလူ၊ တိရစ္ဆာန်၊ သစ်ပင်၊ မြေအ
သီးအနှံ အပေါ်မှာ ငါ သည် ဒေါသ အမျက် မီး
ကိုသွန်းလောင်း၍၊ ထိုမီးသည်မငြိမ်းဘဲလောင်
လိမ့်မည်။
၂၁ ဣသရေလ အမျိုး၏ ဘုရား သခင်၊ ကောင်း
ကင် ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့် တော် မူ
သည်ကား၊ သင်တို့မီးရှို့ရာယဇ်များကိုအခြား
သော ယဇ်များနှင့် အတူ ထား၍၊ အမဲသားကို
၂၂ စားကြလော့။- အကြောင်းမူကား၊ သင်တို့ဘိုး
ဘေးများကိုအဲဂုတ္တုပြည်မှငါနှုတ်ဆောင်သော
အခါ၊ မီးရှို့ရာယဇ် အစရှိသော ယဇ်များ အ
၂၃ တွက် သူတို့ကိုငါမှာထားသည်မဟုတ်။- ငါမှာ
ထား သော အရာ ဟူ မူကား၊ ငါ့ စကား ကို နား
ထောင်ကြလော့။ ထိုသို့ပြုလျှင်၊ ငါသည်သင်တို့၏
ဘုရားသခင်ဖြစ်မည်။ သင်တို့သည်လည်း၊ ငါ၏
လူမျိုး ဖြစ်ကြ လိမ့်မည်။ သင်တို့သည် ကိုယ်အ
ကျိုးကို စောင့် လိုသော ငှါ၊ ငါ စီရင်သမျှ သော
တရားလမ်းသို့ လိုက်ရကြမည်ဟု မှာထား၏။-
၂၄ သို့ရာတွင်၊ သူတို့သည်နားမထောင်၊ နားကိုမ
လှည့်ဘဲ ဆိုးညစ်သောနှလုံးစိုင်မာခြင်းနှင့်အ

ညီကျွန်ုပ်ကြီးပြုရုန်းမှုကစ္ခာမပြု၊ ကြောပိုင်းလျက်
၂၅ နေကြ၏။- သင်တို့အဘများသည် အဲဂုတ္တုပြည်
က ထွက်သွားသောနေ့မှစ၍ ယနေ့တိုင်အောင်၊
ငါသည်နေ့တိုင်းစောစောထ၍၊ ငါ၏ကျွန်ပရော
ဖက် အပေါင်းတို့ကို သင်တို့ရှိရာသို့ အထပ်ထပ်
၂၆ စေလွှတ်သော်လည်း၊-သင်တို့သည် ငစကားကို
နားမထောင်၊ မနာမယူဘဲနေ၍ မိမိတို့လည်ပင်း
ကို ခိုင်မာစေသဖြင့်၊ အဘများထက်သာ၍ ဆိုး
၂၇ သွမ်းကြ၏။- သင်သည် ဤစကားအလုံးစုံကိုသူ
တို့ အား ပြော သော် လည်း၊ သူ တို့ သည် နားမ
၂၈ ထောင်ကြ။ ခေါ်သော်လည်းမထူးကြ။-သို့ဖြစ်၍
သင်ကလည်း၊ ဤလူမျိုးသည်မိမိတို့ဘုရားသခင်
ထာဝရဘုရား၏ စကားတော်ကို နား မထောင်၊
ဆုံးမ၍မနိုင်သောအမျိုးဖြစ်၏။ သစ္စာစကားကိုမ
ပြော၊ သစ္စာပျက်သော အမျိုးဖြစ်သည်ဟု၊ သူ
တို့အားပြောဆိုရမည်။
၂၉ သင်၏သစ္စာဆံပင်ကိုရိတ်၍ပြစ်လိုက်လော့။
မြင့်သောအရပ်၌မြည်တမ်းခြင်းကိုပြုလော့။ အ
ကြောင်းမူကား၊ ထာဝရဘုရားသည် မိမိလူမျိုး
ကို ပယ် တော် မူ ပြီ။ အမျက် တော် သင့် ရောက်
၃၀ သော အမျိုး ကို စွန့် ပြစ် တော် မူ ပြီ။- ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ယုဒအမျိုးသားတို့
သည်ငါ့ရှေ့မှာဆိုးသောအမှုကိုပြုကြပြီ။ ငါ၏နာ
မဖြင့်သမုတ်သော အိမ် တော်ကို ညစ် ညူး စေ
ခြင်းငှါ၊ စက်ဆုပ်ရွံရှာဖွယ်သောအရာတို့ကို သွင်းထား
၃၁ ကြပြီ။-ငါမမှာထား၊ ငါအလျှင်းအလိုမရှိသော်
လည်း၊ သူတို့သားသမီးများကိုမီးရှို့ခြင်းငှါဟိန္နုံ
သား၏ ချိုင့်၌ ရှိသော တောဖက် ကုန်း တို့ ကို
၃၂ တည်ကြပြီ။- သို့ဖြစ်၍ ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ထိုချိုင့်ကို တောဖက်ချိုင့် ဟူ၍မ
ခေါ်၊ ဟိန္နုံသား၏ ချိုင့်ဟူ၍မခေါ်၊ ကွပ်မျက်
ရာချိုင့် ဟူ၍ ခေါ်ရသော အချိန် ကာလ ရောက်
လိမ့်မည်။ တောဖက်၌မြေလွတ်မရှိသည် တိုင်
၃၃ အောင် သင်းဂြိုဟ် ကြလိမ့်မည်။- ဤလူမျိုးအ
သေကောင်တို့သည် မိုဃ်းကောင်းကင်ငှက်နှင့်
တော သားရဲ စားစရာတို့ ဖြစ်ကြ လိမ့်မည်။ ထို
၃၄ တိရိစ္ဆာန်တို့ကိုအဘယ်သူမျှမမောင်းရ။- ယုဒ
မြို့များ၊ ယေရုရှလင်လမ်းများတို့၌ဝမ်းမြောက်
သော အ သံ၊ ရွှင် လန်း သော အ သံ၊ မ ဂ်ီ လာ
ဆောင်သတို့သားအသံနှင့် မင်္ဂလာဆောင်သတို့
သမီးအသံကို ငါစဲစေမည်။ တပြည်လုံးသည်လူ
ဆိတ်ညံရာအရပ်ဖြစ်လိမ့်မည်ဟု မိန့်တော်မူ၏။

၈

၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုကာလ
အခါ ယုဒရှင်ဘုရင်တို့ ၏ အရိုး၊ မှူးမတ်တို့၏ အ
ရိုး၊ ယဇ်ပုရောဟိတ်တို့၏အရိုး၊ ပရောဖက်တို့၏
အရိုး၊ ယေရုရှလင် မြို့ သား တို့ ၏ အရိုးများကို
၂ သင်းချိုင်းတွင်းများအထဲကထုတ်ပြစ်၍၊-ထိုသူ
တို့သည်ချစ်ကြည်ညိုရာ၊ အမှုဆောင်ရာ၊ လိုက်သွားရာ၊
ရှာဖွေရာ၊ ကိုးကွယ်ရာဖြစ်သောနေ၊ လ၊ ကောင်း
ကင်တန်ဆာ ရှေ့မှာ ဖြန့်ထား ကြလိမ့်မည်။ ထို
အရိုး တို့ကို မစုမပုံ၊ မသင်းဂြိုဟ်ရ။ မြေပေါ်မှာ
၃ မစင်ကဲ့သို့ဖြစ်ရကြလိမ့်မည်။-ငါနှင်လိုက်ရာအ
ရပ်ရပ်၌ကျန်ကြွင်း၍၊ ဆိုးယုတ်သော ဤအမျိုး
သားတို့သည်အသက်ကိုအလိုမရှိ။ သေခြင်းကို
အလိုရှိ၍ ရွေးချယ် ရ ကြလိမ့်မည်ဟု၊ ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏။
၄ တဖန်သင်သည် သူတို့အား ထာဝရဘုရား၏
အမိန့် တော်ကို ဆင့်ဆို ရမည် မှာ၊ လဲသော သူ
သည်နောက်တဖန်မထရသလော။ လွဲသွားသော
သူသည် နောက်တဖန်ပြန်၍ မလာရသလော။-
၅ ဤလူမျိုးတည်းဟူသော ယေရုရှလင် မြို့သားတို့
သည် ထာဝရဖောက်ပြန်ခြင်း အား၊ ဖြင့်အဘယ်
ကြောင့်ဖောက်ပြန်ကြသနည်း။ စုသာကိုစွဲလမ်း
ကြ၏။ ငါတို့သည်ပြန်၍မလာဟု၊ ခိုင်မာစွာဆို
၆ ကြ၏။- ငါစေ့စေ့ နားထောင်သောအခါ၊ သူတို့
သည်ဖြောင့်မတ်စွာမပြောကြ။ ငါသည် အဘယ်
သို့ပြုမိသနည်းဟု၊ ကိုယ်အပြစ်ကိုမြင်၍ အဘယ်
သူမျှနောင်တ မရ။ စစ်ထိုက်ခြင်းငှါ မြင်းပြေးသ
ကဲ့သို့၊ ထို သူ အပေါင်း တို့သည် လမ်း လွှဲ၍ တ
၇ ဟုန်တည်းပြေးတတ်ကြ၏။-မိုဃ်းကောင်းကင်
၌ကျင်လည်သောတောငန်းသော်လည်း၊ မိမိအ
ချိန် ကို သိ တတ် ၏။ ဥဩ၊ တီတီတွတ်၊ ဇရက်
သော်လည်း၊ မိမိပြန်လာချိန်ကိုမှတ်တတ်၏။ ငါ
၏လူမူကား၊ ထာဝရဘုရားစီရင်တော်မူခြင်းကို
၈ နားမလည်တတ်။- ငါတို့သည် ပညာရှိ ဖြစ်၏။
ထာဝရဘုရား၏တရားသည်ငါတို့၌ရှိ၏ဟု၊ သင်
တို့သည် အဘယ်သို့ ဆိုရ လိမ့် မည် နည်း။ အ
ကယ်စင်စစ်စာရေးတို့၏ မုသာမှင်တံသည်မုသာ
၉ တရားကိုလုပ်လေပြီ။- ပညာရှိတို့သည်အရှက်
ကွဲကြ၏။ ထိတ်လန့်၍ ကျော့ကွင်းထဲသို့ ဝင်ကြ
ပြီ။ ထာဝရဘုရား ၏ နှုတ်ကပတ်တော်ကိုပယ်
၁၀ ကြပြီ။ သူတို့၌ ပညာမည်မျှ ရှိသနည်း။- ထိုအ
ကြောင်းကြောင့်၊ သူတို့မယားများကိုသူတပါး

တို့၌ ငါအပ်မည်၊ သူတို့လယ်ယာများကိုသူတ
ပါးတို့အားအပိုင်ပေးမည်၊ အငယ်ဆုံးသောသူ
မှစ၍ အကြီးဆုံးသော သူ အပေါင်း တို့ သည် မ
တရားသောစီးပွားကိုရှာကြ၏၊ ပရောဖက်မှစ၍
ယဇ်ပုရောဟိတ် ရှိသမျှ တို့ သည် မုသာကို သုံး
၁၁ ကြ၏။— ချမ်းသာမရှိသောအခါ ချမ်းသာ၊ ချမ်း
သာဟု ပြောဆိုလျက်၊ ငါ၏ လူမျိုးသတို့သမီးအ
၁၂ နာကိုပေါ့လျော့စွာကုကြ၏။— သူတို့သည် ရွံရှာ
ဘွယ်သောအမှုကို ပြုပြီးမှ ရှက်ကြသလော၊ အ
လျှင်း မရှက်ကြ၊ မျက်နှာ မပျက်တတ်ကြ၊ ထို
ကြောင့်၊ တယောက်နောက် တယောက် လဲကြ
လိမ့်မည်၊ ငါစစ်ကြောသောအခါ နှိမ့်ချခြင်းကို
ခံရကြလိမ့်မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။—
၁၃ သူတို့ကိုငါရှင်းရှင်းဖျက်ဆီးမည်၊ စပျစ်နွယ်ပင်
၌ စပျစ်သီးမရှိရ၊ သင်္ဘော သဖန်းပင်၌ သင်္ဘော
သဖန်းသီးမရှိရ၊ အရွက်လည်းညှိုးနွမ်းရမည်
အကြောင်း၊ လွှမ်းမိုးသော သူတို့ကို ငါစေလွှတ်
မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။
၁၄ ငါတို့သည် အဘယ်ကြောင့် ထိုင်လျက်နေကြ
သနည်း။ စုဝေးကြကုန်အံ့၊ ခိုင်ခံ့သောမြို့များအ
ထဲသို့ဝင်၍ တိတ်ဆိတ်စွာနေကြကုန်အံ့၊ ငါတို့
သည် ထာဝရဘုရားကို ပြစ်မှားသောကြောင့်၊
ငါတို့၏ဘုရားသခင် ထာဝရဘုရားသည် ငါ တို့
ကိုတိတ်ဆိတ်စွာနေစေ၍၊ ဆေးခါးနှင့်ရောသော
၁၅ ရေကို တိုက်တော်မူ၏။— ငါတို့သည်ချမ်းသာကို
မျှော်လင့်သော်လည်း၊ ကောင်းသောအရာမပေါ်
လာ၊ သက်သာ ချိန်ကို မျှော်လင့် သော်လည်း၊
၁၆ ဘေးသက်သက်ဖြစ်၏။— သူမြင်းနှာခေါင်းရှူသံ
ကိုဒန်ပြည်က ကြားရ၏၊ သူမြင်းရဲဟီသံကိုကြား
၍တပြည်လုံးတုန်လှုပ်လေ၏၊ သူတို့သည်ရောက်
လာ၍၊ ပြည်နှင့်တကွပြည်၌ရှိသမျှကိုငင်၊ မြို့နှင့်
တကွ မြို့သားတို့ကိုငင် စား၍မျိုကြ၏။
၁၇ ကြည့်ရှုလော့။ မန်းမှုတ်၍မနိုင်သောမြွေ၊ ဆိုး
သော မြွေ များကို သင်တို့ ရှိရာသို့ ငါ စေ လွှတ်
သ ဖြင့်၊ သင်တို့ကိုကိုက်ကြလိမ့်မည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၈ ငါဝမ်းနည်းခြင်းပျောက်မည် အကြောင်း အ
ဘယ်သို့နည်း။ ငါသည်စိတ်ပျက်လျက်နေရ၏။—
၁၉ ငါ၏ လူမျိုးသတို့သမီးအော်ဟစ်သံကို ဝေးသော
ပြည်က ကြားရ၏၊ ထာဝရဘုရားသည် ဇိအုန်
မြို့၌ရှိတော်မမူသလော၊ မိမိရှင်ဘုရင်သည်မြို့ထဲ
၌ရှိတော်မမူသလော၊

တကျွန်းတနိုင်ငံနှင့်ဆိုင်သောအချည်းနှီးအရာ၊
ရုပ်တုဆင်းတုအားဖြင့် သူတို့သည်ငါ့အမျက်ကို
နှိုးဆော်ခြင်းငှါ အဘယ်ကြောင့်ပြုကြသနည်း။
၂၀ အသီး အနှံ သိမ်းရာ ကာလ လွန်ပြီ၊ နွေကာ
လ ကုန်ပြီ၊ ငါတို့သည်ကယ်တင်ခြင်းသို့မရောက်
၂၁ ကြ။—ငါ၏လူမျိုးသတို့သမီးသည်နာသောကြောင့်၊
ငါလည်း နာရ၏၊ ကြမ်းတမ်းသော အဝတ်ကို
၂၂ ဝတ်လျက်၊ မိန်းမောတွေဝေလျက်နေရ၏။— ဂိ
လဒ်ပြည်၌ ဗာလစံပင် အစေးမရှိသလော၊ ထို
ပြည်၌ ဆေးသမား မရှိသလော၊ ရှိလျက်ပင် ငါ
၏လူမျိုးသတို့သမီးသည်အဘယ်ကြောင့်အနာမှ
မထမြောက်သနည်း။

၉

၁ ငါ၏လူမျိုး သတို့ သမီးနှင့် ဆိုင်သော အသေ
ကောင်များအတွက်၊ ငါသည် နေ့ညဉ့်မပြတ်ငို
ရ မည် အကြောင်း၊ ငါ့ခေါင်းသည် ရေ သက်
သက်၊ ငါ့မျက်စိတို့သည် မျက်ရည် ထွက် သော
စမ်းဖြစ်ပါစေသော၊
၂ ငါသည် ငါ၏လူမျိုးကို စွန့်၍ ထွက်သွား နိုင်
အောင်၊ တော၌ ဧည့်သည်တည်းခိုရာ အိမ်ကို ပေးပါစေသော၊ အ
ကြောင်းမူကား၊ ထို သူ အ ပေါင်း တို့ သည် သူ
မယားကို ပြစ်မှားသောသူ၊ သစ္စာပျက်သောအ
၃ စည်းအဝေးဖြစ်ကြ၏။— သူတို့သည် မိမိတို့လျှာ
တည်းဟူသောလေးကိုမုသာနှင့်တင်ကြ၏။ သစ္စာ
တရားကိုအမှီမပြုဘဲ မြေကြီးပေါ်မှာ လူကြီးဖြစ်
ကြ၏၊ အကယ်စင်စစ် ဆိုးသောအမှုအပေါ်မှာ
ဆိုးသော အမှုကို ထပ်၍ပြုကြ၏၊ ငါ့ကိုလည်း
မသိမမှတ်ကြဟု၊ ထာဝရဘုရားမိန့်တော်မူ၏။—
၄ လူတိုင်း မိမိအပေါင်းအဖော်ကို သတိ ပြုလော့၊
မိမိ ညီအစ်ကို ကို မယုံကြနှင့်၊ ညီအစ်ကိုတိုင်း
မိမိညီအစ်ကိုအရာကိုဆက်ဆက်လုယူမည်၊ အ
ပေါင်းအဖော် ရှိ သ မျှ တို့ သည် သူ အသရေကို
၅ ဖျက်ခြင်းဖျက်ကြ လိမ့်မည်။— အပေါင်းအဖော်ရှိ
သမျှတို့သည် တယောက်ကို တယောက် လှည့်
စားကြလိမ့်မည်၊ သစ္စာစကားကိုမပြောဘဲ မုသာ
စကားကိုပြောခြင်းငှါ မိမိတို့လျှာကိုသွန်သင်ကြ
ပြီ၊ မတရားသောအမှုကိုပြုသောအားဖြင့်ကိုယ်
၆ ကိုကိုယ်ပင်ပန်းစေကြပြီ။— သင်၏ နေရာသည်
မုသာအရပ်၌ ရှိ၏၊ အရပ်သားတို့သည် မုသာ
ကြောင့်ငါ့ကိုမသိလိုဟု၊ ထာဝရဘုရားမိန့်တော်
၇ မူ၏။— သို့ဖြစ်၍၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ငါသည်သူတို့

ကိုအရည်ကြို၍ စုံစမ်းမည်။ ထိုမှတပါး ငါ၏လူ
မျိုး ထိုမိန်းမငယ်အဘို့ အဘယ်သို့ ငါပြုရမည်နည်း။-
၈ သူတို့လျှာသည် သေစေ တတ်သော မြှား ဖြစ်၏။
ပရိယာယ်စကားကိုပြောတတ်၏။ အပေါင်းအဖော်ချင်းတို့သည် နှုတ်ဖြင့် သောကဝတ် စကား
ကိုပြော၍၊ နှလုံးဖြင့် ချောင်းမြောင်း တတ်ကြ
၉ ၏။- ထိုသို့သောအပြစ်တို့ကိုငါမစစ်ကြောဘဲနေ
ရမည်လော၊ထိုသို့သောအမျိုးကို စါ ထာ ပေး၍၊
ငါ့စိတ် ချင်ရဲ မပြေဘဲနေရမည်လောဟု ထာဝရ
ဘုရားမိန့်တော်မူ၏။

၁၀ တောင်များ၊ တွင်ပြင်များအတွက်ငါသည်
ငိုကြွေးမြည်တမ်းခြင်းကိုပြုရမည်။ ထိုအရပ်တို့
၌ မီးလောင် သော ကြောင့်၊ လူသည်မရှောက်မ
သွားရ။ သိုး နွား မြည် သံ ကို မ ကြား ရ။ မိုဃ်း
ကောင်းကင်ငှက်နှင့် သားရဲ တို့သည်ထွက်ပြေး
ရကြပြီ။

၁၁ ငါသည်ယေရုရှလင်မြို့ကို အမှိုက်ပုံ၊ မြေခွေး
နေရာတွင်းဖြစ်စေမည်။ ယုဒမြို့ရွာတို့ကို လည်း
၁၂ လူဆိတ်ညံ့ရာအရပ်ဖြစ်စေမည်။- ဤအမှုကိုနား
လည်နိုင်သော ပညာရှိကား၊ အဘယ်သူနည်း။
ထာဝရဘုရား၏ နှုတ်တော်ထွက်ကိုခံ၍၊ ဤအမှု
၏အကြောင်းကိုပြောနိုင်သောသူကား၊ အဘယ်
သူနည်း။ အဘယ် သူ မျှ ရှောက် ၍ မ သွား နိုင်
အောင်၊ တပြည်လုံးသည်တောကဲ့သို့ မီးလောင်
၁၃ ၍၊ အဘယ်ကြောင့် ပျက်စီးသနည်း။- ထာဝရ
ဘုရားမိန့် တော်မူသည်ကား၊ သူတို့သည်ငါ့စကား
ကိုနားမထောင်၊ သူတို့၌ငါပေးသောတရားကိုမ
၁၄ ကျင့်မစောင့်ဘဲစွန့်ပြစ်၍၊-မိမိတို့စိတ်နှလုံးမိုက်
မဲခြင်းသို့၎င်း၊ မိမိဘိုးဘေးအဆုံးအမ ဗာလဘုရား
၁၅ ထိုနောက်သို့၎င်း လိုက်ကြသောကြောင့်၊- ဣသ
ရေလအမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
သူတို့ကိုဒေါနနှင့်ငါကျွေးမည်။ ဆေးခါးနှင့်ရော
၁၆ သောရေကိုတိုက်မည်။- သူတို့မသိ၊ ဘိုးဘေး
မသိသောသူမျိုး၊တို့တွင်အရပ်ရပ်၌ကွဲပြားစေ
မည်။ ရှင်းရှင်းမပျက်ဆီးမှီတိုင်အောင်၊ သူတို့
နောက်သို့ထားဘေးကိုစေလွှတ်မည်။

၁၇ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်
တော်မူသည်ကား၊ဆင်ခြင်ကြလော့။ငိုခြင်းဆိုင်
မတို့ကိုခေါ်၍လာကြစေ။လိမ္မာသောမိမ္မတို့ကိုရှာ
၁၈ ထိုစေလွှတ်၍လာကြစေ။-ငါတို့သည်မျက်ရည်
ကျ၍၊ မျက်ခမ်းထဲကရေတွေ စီးထွက်စေခြင်း
ငှါ၊ ထိုမိန်းမတို့သည်အလျင်အမြန်ပြု၍၊ ငါတို့အ
၁၉ တွက်ငိုကြွေးခြင်းကိုပြုကြစေ။-နားထောင်ကြ။
ဇိအုန်မြို့၌ ကြားရသောငိုကြွေးသံ ဟူမူကား၊ငါ
တို့သည်အဘယ်မျှလောက် လုယူဖျက်ဆီးခြင်း
ကိုခံရသည်တကား။ သူတပါးတို့သည်ငါတို့နေ
ရာများကိုဖြိုချသောကြောင့်၊ ငါတို့သည်ကိုယ်
ပြည်ကိုစွန့်၍ အလွန်မိန်းမောတွေဝေကြသည်တ
၂၀ ကား။- အိုမိန်းမတို့၊ ထာဝရဘုရား၏နှုတ်ကပတ်
တော်ကို နားထောင်၍၊ နှုတ်တော်ထွက်ကို နား
လည်ကြလော့။ သင်တို့၏သမီးတို့အား ငိုကြွေးခြင်း
ကို၎င်း၊ အသီးအသီး အပေါင်းအဖော် တို့အား
၂၁ မြည်တမ်းခြင်းကို၎င်း သွန်သင်ကြလော့။- သေ
မင်းသည်ငါတို့ပြတင်းပေါက်သို့တက်၍၊ ငါတို့
ဘုံဗိမာန်ထဲသို့ဝင်သဖြင့်၊သူငယ်များကိုလမ်း
မှပယ်ရှင်း၍၊ လုလင်များကို ပွဲသဘင်ထဲက ဖျက်
၂၂ ဆီးလေပြီ။-ထာဝရဘုရားမိန့်တော်မူသည်ကား၊
လူသေကောင်တို့သည်ထယ်ပြင်၌နောက်ချေးကဲ့
သို့၎င်း၊ သိမ်းသူမရှိ၊ ရိတ်သော သူ နောက် မှာ
ကျန်ရစ်သော ကောက်လှိုင်းကဲ့သို့၎င်း ကျနေကြ
လိမ့်မည်ဟုကြားပြောလော့။

၂၃ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ပညာရှိ
သောသူသည်မိမိပညာ၌မဝါကြွားစေနှင့်။ ခွန်
အားကြီးသောသူသည်မိမိခွန်အား၌မဝါကြွား
စေနှင့်။ ဥစ္စာရတတ်သော သူသည် မိမိဥစ္စာ၌မ
၂၄ ဝါကြွားစေနှင့်။- ဝါကြွား သော သူ မည်သည်
ကား၊ ငါသည် မြေကြီး ပေါ်မှာ ချစ် သနားခြင်း၊
တရားသဖြင့် စီရင်ခြင်း၊ ဖြောင့်မတ်ခြင်းကို ပြု
သောထာဝရဘုရားဖြစ်ကြောင်းတည်းဟူသော
သဘောကိုသိနားလည်ခြင်း၌သာဝါကြွားစေ။
ငါသည်ထိုအရာတို့၌နှစ်သက်သည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။

၂၅ ထာဝရဘုရား မိန့်တော်မူသည်ကား၊ အရေ
ဖျားလှီးခြင်းကို ခံသောသူ၊ အရေဖျားလှီးခြင်း
၂၆ ကို မခံသောသူ- အဲဂုတ္တုလူ၊ ယုဒလူ၊ ဧဒုံလူ၊
အမ္မုန်အမျိုးသား၊ မောအဘအမျိုးသား၊ ပါးမုန်း
ကိုရိတ်တတ်သောလူမျိုး၊တော၌နေသောသူအ
ပေါင်းတို့ကိုငါဆုံးမရသောအချိန်ကာလရောက်
လိမ့်မည်။ တပါးအမျိုးသားအပေါင်းတို့သည်
အရေဖျားလှီးခြင်းကို မခံသောသူဖြစ်ကြ၏၊ ဣ
သရေလ အမျိုး သား အပေါင်းတို့ သည်လည်း၊
စိတ်နှလုံး အားဖြင့် အရေဖျားလှီးခြင်းကို မခံ
သောသူဖြစ်ကြ၏။

၁၀

၁ အိုဣသရေလအမျိုးသားတို့၊ သင်တို့အား
ထာဝရဘုရားမိန့်တော်မူသောစကားကို နား
၂ ထောင်ကြလော့။– ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ သာသနာပလူတို့၏အသာသာဝလေ့၌
မကျင်လည်ကြနှင့်။သာသနာပလူတို့ထိတ်လန့်
ကြောက်တတ်သော မိုဃ်းကောင်းကင် နိမိတ်
၃ တို့မှ မထိတ်လန့် မကြောက်ကြနှင့်။– လူအမျိုး
မျိုးကျင့်သောအကျင့်ဓလေ့တို့သည် အချည်းနှီး
ဖြစ်ကြ၏။ အဘယ်သို့နည်းဟူမူကား၊ သူတို့
သည်တော၌သစ်ပင်ကိုခုတ်လှည်း၍၊ပုဆိန်နှင့်
လုပ်တတ်သောလက်သမား၏လက်လုပ်ရာဖြစ်
၄ သောအရာကို၊–ရွှေငွေနှင့်လှပစွာချယ်လှယ်ပြီး
လျှင်၊မလှုပ်ရှားစေခြင်းငှါ သံချွန်ကိုတူနှင့်ရိုက်
၅ ထားကြ၏။–သူသည်စွန်ပလွံပင်ကဲ့သို့ခိုင်မာ၍
စကားမပြောတတ်။မိမိအလိုအလျောက်မသွား
နိုင်သောကြောင့်၊ထမ်း၍သွားရ၏။ထိုအရာတို့
ကို မကြောက်ကြနှင့်။ အန္တရာယ်ကို မပြုနိုင်။
ကျေးဇူးကိုလည်းမပြုနိုင်။
၆ အိုထာဝရဘုရား၊ကိုယ်တော်နှင့်အဘယ်သူ
မျှမတူပါ။ ကိုယ်တော်သည်ကြီးမြတ်တော်မူ၏။
နာမတော်သည်လည်း၊ တန်ခိုးတော်အားဖြင့်
၇ ကြီးမြတ်တော်မူ၏။– အိုလူအမျိုးမျိုးတို့၏
ဘုရင်၊ကိုယ်တော်ကိုကြောက်သင့်သည်ဖြစ်၍၊
အဘယ်သူသည်မကြောက်ဘဲနေရပါမည်
နည်း။အမျိုးမျိုးသောပညာရှိအပေါင်းတို့၌၎င်း၊
ခပ်သိမ်းသောတိုင်းနိုင်ငံတို့၌၎င်း၊ ကိုယ်တော်
၈ နှင့်တူသောသူတစုံတယောက်မျှမရှိပါ။– သူတို့
သည် တလုံးတဝတည်း၊တိရစ္ဆာန်သဘောနှင့်
မိုက်သောသဘောရှိကြ၏။သစ်သားသော်လည်း
၉ မိုက်သောအယူကိုဆုံးမတတ်၏။– ဆုလုပ်တတ်
သောသူ၊ သွန်းတတ်သောသူ၏လက်လုပ်ရာငွေ
ပြားကို တာရှုမြို့မှ၎င်း၊ ရွှေကိုလည်း ဥဖတ်မြို့မှ
၎င်းဆောင်ခဲ့တတ်၏။ ပြာသောအထည်၊မောင်း
သောအထည်နှင့်ချုပ်တတ်၏။လိမ္မာသောသူလုပ်
၁၀ ရာသက်သက်ဖြစ်သတည်း။– ထာဝရဘုရားမူ
ကား၊မှန်သောဘုရား၊အသက်ရှင်သောဘုရား၊
နိစ္စထာဝရဘုရင် ဖြစ်တော်မူ၏။ အမျက်တော်
ထွက်လျှင်မြေကြီးတုန်လှုပ်ရ၏။လူအမျိုးမျိုးတို့
၁၁ သည်အမျက်တော်ကိုမခံနိုင်ကြ။–သာသနာမလူ
တို့အားပြောရသောစကားဟူမူကား၊ ကောင်း
ကင်နှင့်မြေကြီးကိုမဖန်ဆင်းသောဘုရားတို့သည်
ဤကောင်းကင်အောက်၊ ဤမြေကြီးပြင်မှကွယ်
၁၂ ပျောက်ကြလိမ့်မည်။– ထာဝရဘုရားသည်တန်
ခိုးတော်အားဖြင့်မြေကြီးကိုဖန်ဆင်းတော်မူပြီ။
ပညာတော်အားဖြင့် လောကဓာတ်ကို တည်
တော်မူပြီ။ဉာဏ်တော်အားဖြင့်မိုဃ်းကောင်း
၁၃ ကင်ကိုဖြန့်တော်မူပြီ။– အသံတော်ကိုလွှတ်
တော်မူသောအခါ၊မိုဃ်းရေအသံဗလံဖြစ်တတ်
၏။ မြေကြီးစွန်းမှမိုဃ်းတိမ်ကိုတက်စေတော်မူ
၏။ မိုဃ်းကြိုးသည် နှင့် လျှပ်စစ် ဖြစ်စေတော်မူ
၏။လေကိုလည်း၊ဘဏ္ဍာတော်တိုက်ထဲကထုတ်
၁၄ တော်မူ၏။– လူမည်သည်ကား၊မိမိဉာဏ်အား
ဖြင့်တိရစ္ဆာန်ကဲ့သို့ဖြစ်၏။ရုပ်တုကိုသွန်းသော
သူတိုင်း မိမိလုပ်သောရုပ်တုအားဖြင့် မျောက်
မှားလျက်ရှိ၏။ အကြောင်းမူကား၊ သွန်းသော
ရုပ်တုသည်မုသာဖြစ်၏။သူ၌လည်းထွက်သက်
၁၅ ဝင်သက်မရှိ။–ထိုသို့သောအရာတို့သည်အချည်း
နှီးသက်သက်ဖြစ်ကြ၏။ လှည့်စားသောအရာ
လည်းဖြစ်ကြ၏။စစ်ကြောခြင်းကိုခံရသည်ကာ
၁၆ လ၌ ကွယ်ပျောက်ကြလိမ့်မည်။– ယာကုပ်အ
မျိုး၏အဖို့သည် ထိုသို့သောအရာနှင့်တူတော်မ
မူ။ ခပ်သိမ်းသောအရာတို့ကို ဖန်ဆင်းသော
ဘုရားဖြစ်တော်မူ၏။ ဣသရေလအမျိုးသည်အ
မွေခံတော်မူရာဖြစ်၏။ နာမတော်သည် ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရားပေတည်း။
၁၇ အိုရဲတိုက်၌နေသောသူ၊ မြေပေါ်မှာရှိသော
၁၈ သင်၏ဥစ္စာပရိက္ခရာများကို စုသိမ်းလော့။– ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ထစုပင်ငါသည်
လောက်လွှဲစာကိုပြစ်သကဲ့သို့၊ ပြည်သားများ
ကို လောက်လွှဲထဲကပြစ်၍၊ ရန်သူတို့ထက်သို့
ရောက်စေခြင်းငှါ ညှဉ်းဆဲမည်ဟု မိန့်တော်
မူ၏။
၁၉ ငါသည် ဖျိုးဖျက်ခြင်းကိုခံရသောကြောင့်
အမင်္ဂလာရှိ၏။ငါ့အနာပြင်းလှ၏။သို့သော်လည်း၊
ငါတွေ့သောဤဒုက္ခဝေဒနာကို ဆက်ဆက်ခံရ
၂၀ မည်ဟုငါဆို၏။–ငါ့တဲလည်းပျက်၏။ငါ့ကြိုးရှိသ
မျှတို့လည်း ပြတ်ကြ၏။ သားတို့လည်းငါ့ထံမှ
ထွက်သွား၍ပျောက်ကြ၏။ နောက်တဖန် ငါ့တဲ
ကိုဆောက်ရသောသူ၊ ငါ့ကုလားကာတို့ကိုဆွဲ
၂၁ ကာရသောသူမရှိ။– အကြောင်းမူကား၊ သိုး
ထိန်းတို့သည် တိရစ္ဆာန်သဘောရှိ၍၊ ထာဝရ
ဘုရားကိုမရှာဖွေသောကြောင့်အကြံမမြောက်
ရကြ။ သိုးစုအပေါင်းတို့သည် အရပ်ရပ်သို့ကွဲ

၂၂ ကြားရကြ၏။- အသံကိုကြားရ၏၊ အနီးသို့လာ၏၊ ယုဒမြို့တို့ကိုဖျက်ဆီး၍၊ မြေခွေးနေရာတွင်းဖြစ်စေခြင်းငှါ၊ ကြီးသောအသံမထံသဥ်မြောက်မျက်နှာကလာ၏။

၂၃ အိုထာဝရဘုရား၊ လူသည် မိမိသွားရာလမ်းကိုအမိုးမရ၊ သွားစည်အခါ မိမိခြေရာတို့ကိုမစီ

၂၄ ရင်တတ်သည်ကိုအကျွန်ုပ်သိပါ၏။- အိုထာဝရဘုရား၊ အကျွန်ုပ်ကို ဆုံးမတော်မူလျှင်၊ အကျိုးနည်း၏စေခြင်းငှါ အမျက် ထွက်တော်မမူပါနှင့်၊

၂၅ တရားတော်အတိုင်းသာဆုံးမတော်မူပါ။- ကိုယ်တော်ကိုမသိသော တပါးအမျိုးသားတို့အပေါ်သို့၎င်း၊ နာမတော်ကို ပဌနာ မပြုသော အမျိုးအနွယ်တို့ အပေါ် သို့၎င်း၊ အမျက်တော် ကို သွန်းလောင်း တော်မူ ပါ။ အကြောင်းမူကား၊ သူတို့သည် ယာကုပ်အမျိုးကိုအကုန်အစင်ကိုက်စား၍၊ သူ၏နေရာကိုသုတ်သင်ပယ်ရှင်းကြပါပြီ။

၁၁

၁ ယေရမိသို့ရောက်လာသော ထာဝရဘုရား၏ နှုတ်ကပတ်တော်ဟူမူကား၊ ဤပဋိညာဉ်စကား

၂-၅ ကို နားထောင်ကြလော့။- သင်သည် ယုဒပြည်သူ၊ ယေရုရှလင်မြို့သားတို့အား၊ ဣသရေလအမျိုး၏ဘုရားသခင် ထာဝရဘုရား၏အမိန့်တော်ကိုဟောပြောဆင့်ဆိုရမည်မှာ၊ ယနေ့ဖြစ်သည်နှင့်အညီ၊ နို့နှင့်ပျားရည်စီးသောပြည်ကိုငါပေးမည်ဟု၊ သင်တို့၏ဘိုးဘေးများ၌ငါကျိန်ဆိုသောသစ္စာဂတိကို စောင့်ရသော အခွင့် ရှိစေခြင်းငှါ၊ သင်တို့သည် ငါ၏လူဖြစ်၍၊ ငါသည်လည်းသင်တို့၏ ဘုရား ဖြစ်မည် အကြောင်း၊ ငါစကားကိုနားထောင်၍၊ ငါမှာထားသမျှအတိုင်း ကျင့်ကြလော့ဟု၊ သံမီးဖို တည်းဟူသော အဲဂုတ္တုပြည်မှ သင်တို့ ၏ ဘိုးဘေး များကို နှုတ်ဆောင်သော အခါ၊ သူ တို့ ၌ ငါ ထား သော ပဋိညာဉ်တရားစကားကိုနားမထောင်သောသူသည်ကျိန်တော်မူခြင်းကိုခံစေဟု မိန့်တော်မူလျှင်၊ ငါက၊

၆ အိုထာဝရဘုရား၊ အာမင်ဟု လျှောက်၏။- ထာဝရဘုရားကလည်း၊ သင်သည် ယုဒ မြို့များနှင့် ယေရုရှလင် လမ်းများတို့၌ ဟာစ်ကြော် ရမည်စကားဟူမူကား၊ သင်တို့သည်ဤပဋိညာဉ်စကား

၇ ကိုနားထောင်၍ကျင့်ကြလော့။- အကြောင်းမူကား၊ ငါစကားကိုနားထောင်ကြလော့ဟု၊ သင်တို့၏ဘိုးဘေး များကို အဲဂုတ္တုပြည်က ငါနှုတ်ဆောင်သောနေ့မှစ၍ယနေ့တိုင်အောင်၊ ငါသည်စောစောထ၍ အထပ်ထပ် ဆုံးမ ဟောသည်။-

၈ သူတို့သည် နားမထောင်၊ နားကိုမဖွင့်ဘဲဆိုးညစ်သောမိမိတို့စိတ်နှလုံး မိုက်မာခြင်းရှိသည်အတိုင်း၊ တယောက်မျှမကြွင်း၊ လိုက်သွားကြသောကြောင့်၊ ငါမှာထား၍၊ သူတို့မကျင့်သောဤပဋိညာဉ်စကားအလုံးစုံတို့ကို၊ သူတို့အပေါ်၌ငါသက်ရောက်စေမည်ဟုမိန့်တော်မူ၏။

၉ တဖန်ထာဝရဘုရားသည် ငါအားမိန့်တော်မူသည်ကား၊ ယုဒပြည်သူ၊ ယေရုရှလင် မြို့ သား

၁၀ တို့သည် သင်း ဖွဲ့ ကြ၏။- ငါစကားကို ငြင်းပယ်သောဘိုးဘေးတို့၏ဒုစရိုက်များကိုပြုဖုံသောငှါ ပြန်သွားကြပြီ၊ အခြားတပါးသောဘုရားတို့ကို ဝတ်ပြုဖုံသောငှါလိုက်သွားကြပြီ၊ သူတို့၏ဘိုးဘေးများနှင့်ငါဖွဲ့သောပဋိညာဉ်တရားကိုဣသရေလအမျိုးနှင့် ယုဒအမျိုးသားတို့သည်ဖျက်ကြ

၁၁ ပြီ။- သို့ဖြစ်၍၊ ထာဝရဘုရား မိန့်တော်မူသည်ကား၊ သူတို့ မ လွတ် နိုင် သော ဘေး အန္တရာယ်ကို သူ တို့ အပေါ်၌ ငါသက်ရောက် စေမည်၊ သူတို့သည် ငါ့ကို အော်ဟစ် သော်လည်း၊ ငါ နားမ

၁၂ ထောင်ဘဲနေမည်။- ထိုအခါ ယုဒမြို့သူရွာသားနှင့် ယေရုရှလင်မြို့သားတို့သည်နံ့သာပေါင်းကိုမီးရှို့၍၊ ပူဇော်ဘူးသော ဘုရားများထံ သို့သွား၍အော်ဟစ်သော်လည်း၊ ဘေးရောက်ရာကာလ၌ ထိုဘုရားတို့သည် အလျှင်း ချမ်းသာမပေးဘဲ

၁၃ နေကြလိမ့်မည်။- အိုယုဒပြည်၊ သင်သည်မြို့များအရေ အတွက် ရှိသည် အတိုင်း၊ သင်၏ ဘုရား များ ရှိပါ သည် တကား၊ ယေရုရှလင် မြို့ လမ်း များ အရေ အတွက်ရှိသည် အတိုင်း၊ ရှက် ဖွယ်သော ရုပ်တုအဖို့ယဇ်ပလ္လင်များ၊ ဗာလဘုရားရှေ့မှာနံ့သာပေါင်းရှို့ရာယဇ်ပလ္လင်များကိုတည်

၁၄ ကြပြီ။- သို့ဖြစ်၍၊ သင်သည်ဤလူမျိုးအဖို့ပဌနာ မပြုနှင့်၊ သူတို့ အဖို့ အော်ဟစ် ခြင်း၊ ဆုတောင်းခြင်းကိုမပြုနှင့်။ ဘေးရောက်သည်ကာလ၊ သူတို့

၁၅ အော်ဟစ်သောစကားကို ငါနားမထောင်။- ငါချစ်သော အမသည် များ ပြား သော သူတို့ နှင့် မတရားသဖြင့် ပေါင်းဖော်၍၊ ဆိုးညစ် စည်တွင်၊ ငါ့အိမ်နှင့် အဘယ်သို့ ဆိုင်သနည်း၊ သင်သည် သန့်ရှင်းသော အမဲသားကိုမပူဇော်ရ၊ ဒုစရိုက်ကိုပြုစဉ်တွင်ပင်၊ ဝမ်းမြောက်ပါသည်တကား။-

၁၆ မိမ်းသန်း၍ ဖူးပ၍ ကောင်းသော အသီးကို သီးသော သံလွင်ပင် ဟု၊ သင့် ကို ထာဝရဘုရား သမုတ်တော် မူ၏၊ ကြီးသော အသံ မထံနှင့် ထိုအ

ပင်ကို မီးရှို့တော်မူ၍၊ အခက်အလက်တို့သည်
၁၇ ထွမ်းသောင်ကြ၏။- ဣသရေလအမျိုးနှင့်ယုဒ
အမျိုး သား တို့သည် ဗာလ ဘုရားရှေ့မှာနံ့သာ
ပေါင်းကို မီးရှို့၍၊ ငါ့အမျက်ကို နှိုးဆော်ခြင်းငှါ
မိမိ တို့ အဖို့ မ ကောင်း သော အမှု ကို ပြုသော
ကြောင့်၊ သင့်ကို စိုက်တော်မူသောကောင်းကင်
ဗိုလ်ခြေအရှင်ထာဝရဘုရားသည်၊ သင်၌အမှု
ရောက်မည်အကြောင်းမိန့်တော်မူပြီ။
၁၈ ထာဝရဘုရားသည် ငါ့အားဖျာဖိတ်ပေးတော်
မူသောကြောင့်ငါသိရ၏။သူတို့ပြုသောအမှုများ
၁၉ ကိုကိုယ်တော်သည်ပြတော်မူပြီ။-အသေသတ်
ခြင်းငှါဆောင်သွားသောသိုးသငယ်ယည်ကဲ့သို့
ငါဖြစ်၏။သူတို့က၊သူ၏နာမကိုရှင်းရှင်းပျောက်
စေခြင်းငှါ၊ အသီး အကင်း နှင့် တ ကွ အပင်ကို
ရှင်းရှင်း ဖျက်၍၊ အသက်ရှင်သော သူတို့၏ နေ
ရာမှသူကိုပယ်ဖြတ်ကြကုန်အံ့ဟု၊ ငါ့တဖက်၌မ
ကောင်းသော အကြံ နှင့် ကြံ စည်ကြောင်းကို ငါ
၂၀ မသိ။- နှစ်လုံး ကျောက်ကပ် ကို စစ်ကြော ၍၊
တရားသဖြင့် စီ ရင် တော် မူ သော ကောင်းကင်
ဗိုလ်ခြေအရှင်ထာဝရဘုရား၊ ကိုယ်တော်သည်
ထိုသူတို့အား အပြစ် ပေးတော် မူကြောင်းကို အ
ကျွန်ုပ်မြင်လိုပါ၏၊ အကျွန်ုပ်အမှုကိုကိုယ်တော်
၂၁ အား ကြား လျှောက်ပါပြီ။- ထာဝရဘုရား မိန့်
တော် မူ သည်ကား၊ အာနသုတ် မြို့သား တို့က၊
သင်သည်ငါ့တို့လက်ဖြင့်မသေရမည်အကြောင်း၊
ထာဝရဘုရား၏နာမတော်အားဖြင့် ပရောဖက်
မပြုနှင့်ဟု ဆိုလျက်၊ သင်၏ အသက် ကို ရှာကြ
၂၂ သော ကြောင့်၊- ငါသည် သူ တို့ကို စစ်ကြော သ
ဖြင့်၊ လုလင်တို့သည် ထားဖြင့် သေကြ လိမ့်မည်၊
သားသမီးတို့သည်ငတ်မွတ်၍သေကြလိမ့်မည်။-
၂၃ တစုံတယောက်မျှမကြွင်းရ။ ထိုသို့စစ်ကြောရာ
ကာလ တည်း ဟူ သော ဘေး ဥပါဒ် ကို အာန
သုတ် မြို့သားတို့ အပေါ်သို့ ငါသက်ရောက် စေ
မည် ဟု၊ ကောင်း ကင် ဗိုလ် ခြေ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။

၁၂ ။

၁ အိုထာဝရဘုရား၊ အကျွန်ုပ်သည်ကိုယ်တော်
နှင့် တရားစကားကို ဆွေးနွေးသောအခါ၊ ကိုယ်
တော်သည်တရားတော်မူ၏။သို့သော်လည်း၊စစ်
ကြော စီ ရင် တော်မူ ခြင်း အ ကြောင်း ကို မေး
လျှောက်ပါမည်။ မတရားသော သူတို့သည် အ
ထမြောက်ရသောအကြောင်းနှင့်အကြံမြောက်ရကြပါသနည်း။ အ
ဖွန် သစ္စာ ဖောက်သော သူအပေါင်းတို့သည် အ
၂ ထယ်ကြောင့် ချမ်းသာရကြပါသနည်း။- ကိုယ်
တော်သည် သူတို့ကို စိုက်တော်မူသဖြင့်၊ သူတို့
သည် အမြစ်ကျ၍ ကြီးပွားလျက် အသီးကိုသီး
ကြပါ၏။ ကိုယ်တော်သည် သူတို့ နှုတ်နှင့် နီး၍
၃ နှစ်လုံးနှင့် ဝေးတော် မူ၏။- အို ထာဝရဘုရား၊
ကိုယ်တော်သည်အကျွန်ုပ်ကိုသိမြင်တော်မူ၏။အ
ကျွန်ုပ်သည်ကိုယ်တော်နှင့်သဘောတူကြောင်း၊
ကိုစစ်ကြောတော်မူပြီ။ သိုးတို့ကိုထုတ်သကဲ့သို့၊
ထိုမတရားသောသူတို့ကိုအသေသတ်ခြင်းငှါဆွဲ
ထုတ်တော်မူပါ၊ သတ်ရသောနေ့အဖို့ ရွေးဆင်
၄ တော်မူပါ။- ပြည်သားများ ပြုသော ဒုစရိုက်အ
ပြစ်ကြောင့်၊ ပြည်သည် အဘယ်မျှ ကာလ ပတ်
လုံး ငြိုငြင်း ရပါအံ့နည်း။ အရပ်ရပ် ၌ရှိ ပေါက်
သော မြက်ပင်သည် အဘယ်မျှ ကာလ ပတ်လုံး
ညှိုးနွမ်းရပါအံ့နည်း။ ငါတို့ခံရသောအကျိုးအ
ပြစ်ကိုဘုရားသခင်မသိမမြင်ဟု၊ပြည်သားများ
ဆိုသောကြောင့်၊ သားများနှင့်ငှက်များတို့သည်
ပျောက်ပျက်ကြပါပြီ။
၅ သင်သည်ခြေသည်တို့နှင့်ပြိုင်ပြေး၍မောလျှင်
မြင်းတို့နှင့်အဘယ်သို့ပြိုင်နိုင်မည်နည်း။မိုးရိပ်
ခြင်းမရှိ၊ ငြိမ်ဝပ်စွာနေရသောပြည်၌မောလျှင်၊
ယော်ဒန်မြစ်၏ ဂုဏ်အသရေထဲမှာ အဘယ်သို့
၆ ပြုလိမ့်မည်နည်း။-သင်၏ညီအစ်ကို၊အဖ၏အိမ်
သူ အိမ်သား တို့ပင် သင့်ကို သစ္စာ ဖောက်၍၊ သင့်
နောက်သို့ အော် ဟစ်လျက် လိုက် ကြ၏၊ သူတို့
သည်ကောင်းသောစကားကို ပြောသော်လည်း
မယုံနှင့်။
၇ ငါသည် ကိုယ် အိမ်ကို စွန့်၍၊ ကိုယ် အမွေကို
ပြစ်ထားပြီ။ ငါအလွန်ချစ်သောအမကိုသူ၏ရန်
၈ သူထက်သို့အပ်နှံပြီ။- ငါ့အမွေသည်တော၌နေ
သောချင်သေ့ကဲ့သို့ ငါ့အားဖြစ်၍၊ ကိုကြွေးကြော်
၉ သော ကြောင့် ငါ ရွံ့ ရှာ ၏။- ငါ့ အမွေ သည်
စွန်းထင်းသောသားရဲကဲ့သို့ငါ့အားဖြစ်၏။ပတ်ထပ်၌ရှိ
သောသားရဲတို့သည်တိုက်ကြ၏။လာကြ။တော
သားရဲ အပေါင်းတို့၊စည်းဝေးကြ။ကိုက်စားခြင်း
၁၀ ငှါလာကြစေ။- များစွာသောသိုးထိန်းတို့သည်
ငါ့စပျစ် ဥယျာဉ်ကို ဖျက်ဆီး ကြပြီ။ ငါ ရ ထိုက်
သောအဖို့ကို ကျော်နင်းကြပြီ။ ငါရထိုက်သော
နှစ်သက်ရာအဖို့ကို လူဆိတ်ညံရာတော ဖြစ်စေ
၁၁ ကြ ပြီ။- သုတ်သင် ပယ်ရှင်း သော ကြောင့်၊ လူ
ဆိတ်ညံ လျက် ရှိ၍၊ ငါ့အား ညည်းတွားလေ၏။

ထမြည်လုံးဖျက်ဆီးသော်လည်း၊ အထထဲသူမျှ
၁၂ ဖမာထမပြုတတ်။- တောသို့မြင့်သော အရပ်အ
ထုံးနံ့ထို့အပေါ်မှာထုရတ်သောသူတို့သပြိတက်
ကြပြီ။ အကယ်စင်စစ်ပြည်နှုန်းတာဇတ်မှာအစတ်
ထိုင် အောင် ထာဝရဘုရား၏ ထား တော်ထည်
၁၃ ဖျက်ဆီးသမြင့်၊ အထထဲသူမျှ ချမ်းသာမရ။- သူ
တို့သည် ဂျုံစပါးမျိုးစေ့ကိုကြဲ၍ ဆူးပင်ကိုသာ
ရိတ်ရကြ၏။ ပင်ပန်းစွာ ကြိုးစား သော် လည်း
ကျေးဇူးမရှိကြ။ ထာဝရဘုရား၏အမျက်တော်
အ မှိန် ကြောင့်၊ မိမိ တို့ ခံ ရ သော အ ကျိုး ကို
ထောက်၍ရှက်ကြလိမ့်မည်။
၁၄ ထာဝရဘုရား မိန့်တော် မူသည်ကား၊ ငါပေး
သနား၍၊ ငါ၏ လူ ဣသ ရေလ အမျိုး ပိုင် ထိုက်
သော အမွေကိုထိမိုက်သော၊ ငါ၏ အိမ်နီးချင်း
ဆိုး အပေါင်းတို့ကို၊ သူတို့ ပြည်ထဲက ငါ နှုတ်
မည်။သူတို့အထဲကထဝိုးယုဒအမျိုးကိုငါနှုတ်
၁၅ မည်။- နှုတ်ပြီးမှ တစန်ငါသနား၍၊ အသီးအ
သီးတို့ကိုမိမိတို့ပိုင်ထိုက်သောမြေ၊မိမိတို့နေရင်း
၁၆ ပြည်သို့ ငါပြန် ပို့မည်။- ဗာလ ဘုရားကို တိုင်
တည်၍ကျိန်ဆိုစေခြင်းငှါ၊ သူတို့သည် ငါ၏ လူ
မျိုးကိုသွန်သင်ဘူးသည်နည်းတူ၊ ထာဝရဘုရား
အသက် ရှင်တော်မူသည်ဟု၊ ငါ၏နာမကို တိုင်
တည်၍ ကျိန်ဆို ခြင်းငှါ၊ လူမျိုး၏ ထာသာစ
ထေကိုကြိုးစား၍ သင်လျှင်၊ ငါ၏လူမျိုးအထဲ၌
၁၇ သူတို့ကို ငါတည် စေ မည်။- သို့ မဟုတ်၊ နားမ
ထောင်ဘဲနေလျှင်၊ နားမထောင်သော လူမျိုးကို
ငါသည်ရှင်းရှင်းနှုတ်ပယ်ဖျက်ဆီးမည်ဟု၊ထာ
ဝရဘုရားမိန့်တော်မူ၏။

၁၃

၁ တစန် ထာဝရဘုရားက၊ သင်သည် မြည်ခါး
ပန်းကိုသွား၍ထူပြီးလျှင် ခါး၌ စည်းလော့၊ ရေ
နှင့်မလျှော်ရဟု၊ ထေားမိန့်တော်မူသောစကား
၂ တော်အတိုင်း၊- ငါသည် ခါးပန်းကိုထူ၍ ခါး၌
၃ စည်းလေ၏။-ထာဝရဘုရား၏နှုတ်ကပတ်တော်
၄ သည်ဒုတိယအကြိမ်ငါ့ဆီသို့ရောက်လျှင်၊- သင်
ယည် ခါး၌ စည်းသော ခါးပန်းကို ထူပြီးလျှင်၊
ဥဖရတ်မြစ်သို့ထသွား၍၊ ကျောက်တွင်း၌ ဖွတ်
၅ ထား လော့ ဟု၊- မိန့်တော် မူ သည် အတိုင်း ငါ
သည်သွား၍ ဥဖရတ် မြစ်နားမှာ ဖွတ် ထား၏။-
၆ ထိုနောက်၊ ကာလအင်တန်ကြာပြီးမှ၊ ထာဝရ
ဘုရားက၊ သင်သည်ထ၍ ဥဖရတ်မြစ်သို့ သွား
လော့၊ ထိုမြစ်နားမှာငါမိန့်တော်နှင့်ဖွတ်ထား
ခဲ့ပြီးသောခါးပန်းကို ထုတ်လော့ဟု မိန့်တော်မူ
၇ ၏။- ငါသည်ထည်း ဥဖရတ်မြစ်နားသို့သွားပြီး
လျှင်၊ ဖွတ် ထားရာ အရပ် ၌ ထူး၍၊ ခါး ပန်းကို
ထုတ်သော အခါ၊ ခါးပန်းသည် ဆွေးမြေ့၍ အ
သုံးမရဖြစ်၏။
၈ ထာဝရဘုရား၏နှုတ်ကပတ်တော်သည်ငါ့ဆီ
၉ သို့ရောက်၍မိန့်တော်မူသည်ကား၊-ထိုနည်းတူ၊
ယုဒပြည်၏ ထောင်လွှားခြင်းကို ငါရှုတ်ချမည်။
ယေရုရှလင် မြို့၏ ထောင် လွှား ခြင်းကို အလွန်
၁၀ ရှုတ်ချမည်။- စကားကိုနားမထောင်၊မိမိစိတ်
နှလုံးမိုင်မာသောသဘောအတိုင်းကျင့်၍၊ အ
ခြားသော ဘုရားတို့ကိုဝတ်ပြု ကိုးကွယ်
ခြင်းငှါ လိုက်သွားသော ဤလူဆိုးမျိုးသည်၊အ
၁၁ သုံးမရသော ဤခါးပန်းကဲ့သို့ဖြစ်လိမ့်မည်။-ခါး
ပန်းသည်လူ၏ခါး၌မှီဝဲသကဲ့သို့၊ ဣသရေလအ
မျိုးမှိသမျှတို့နှင့်ယုဒအမျိုး အပေါင်းတို့သည်ငါ
၏လူမျိုး၊ ဂုဏ်နာမ၊ ဘုန်းအသရေ ဖြစ်စေ ခြင်းငှါ၊
ငါ၌မှီဝဲစေသော်လည်း၊ သူတို့သည်နားမထောင်
ကြဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၁၂ တစန် ဣသရေလအမျိုး၏ ဘုရားသခင် ထာ
ဝရဘုရားက၊ သားရေဘူးမှိသမျှတို့သည် စပျစ်
ရည်နှင့်ပြည့်ကြလိမ့်မည်ဟုမိန့်တော်မူကြောင်း
ကို၊ ထင်သည်သူတို့အားပြောလော့၊ သူတို့က
ထည်း၊ သားရေဘူး မှိသမျှ တို့သည် စပျစ်ရည်
နှင့်ပြည့်ကြလိမ့်မည် အကြောင်းကို၊ ငါတို့မသိ
၁၃ သလောဟု ပြန်ပြော ကြလျှင်၊- ထင်ကထည်း၊
ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဒါဝိဒ်မင်း
ကြီး၏ရာဇပလ္လင်ပေါ်မှာ ထိုင်သောရှင်ဘုရင်မှ
စ၍ထဇ်ပရောဟိတ်၊ ပရောဖက်၊ ယေရုရှလင်
မြို့သားမှိသမျှတို့နှင့်ပြည်သူ ပြည်သား အပေါင်း
၁၄ တို့ကို ယစ်မူး ခြင်းနှင့် ငါပြည့်စေမည်။- ညီအစ်
ကိုချင်း၊ သားအဖချင်းတို့ကို ငါထိမိုက် စေမည်။
ငါယည် ကရုဏာ မရှိ၊ မနှစ်မြော၊ မကယ်မသဲ၊
ထိုသူတို့ကို ဖျက်ဆီးမည်ဟု၊ ထာဝရဘုရားမိန့်
တော်မူ၏။
၁၅ သင် တို့ သည် နား ထောင် နာ ယူ ကြ လော့။
ထောင်လွှားသောစိတ်မရှိကြနှင့်၊ထာဝရဘုရား
၁၆ အမိန့် တော် ရှိ၏။- မိုဃ်း မချုပ်မီ၊ မိုက်သော
တောင်ပေါ်မှာသင်တို့သည်ထိမိုက်၍မလဲမှီ၊ အ
လင်းကိုမျှော်လင့်သောအခါ၊သေမင်းအရိပ်၊ထူ
ထပ်သောမှောင်မိုက်ကိုဖြစ်စေတော်မမူမှီ၊သင်
တို့၏ဘုရားသခင်ထာဝရဘုရား၏ဂုဏ်တော်ကို

၁၇ ငိုးကြွေးကြလော့။-သင်တို့သည်နားမထောင်ဘဲ
နေလျှင်မူကား၊သင်တို့မာနကြောင့်၊ငါ၏ဝိညာဉ်
သည်မထင်ရှားသောအရပ်၌ငိုကြွေးမည်။ ထာ
ဝရဘုရား၏ သိုးစုကို သိမ်းသွားသော ကြောင့်၊
ငါ့မျက်စိသည်၊ အလွန်ငို၍ မျက်ရည်ကျမည်။-
၁၈ ကိုယ်ကို ကိုယ်နှိမ့်ချ၍ ထိုင်ကြ လော့။ သင်တို့၌
ဘုန်းကြီးသောသရဖူသည်သင်တို့၏ခေါင်းပေါ်
မှဆင်းရ လိမ့် မည်ဟု၊ ရှင်ဘုရင်နှင့် မိဖုရားတို့
၁၉ အားပြောလော့။-တောင်ထက်မြို့တို့ကိုပိတ်ထား
၍အဘယ်သူမျှမဖွင့်ရ။ ယုဒပြည်သူပြည်သား
အပေါင်းတို့ကို သိမ်းသွားကြပြီ။ အကုန်အစင်
၂၀ သိမ်းသွားကြပြီ။-မြောက်မျက်နှာကလာသော
သူတို့ကိုမျှော်၍ ကြည့်လော့။ သင့်အား ငါပေး
သောသိုးစု၊လှသောသိုးစုသည်အဘယ်မှာရှိသ
၂၁ နည်း။- သင်သည်ဆုံးမတော်မူခြင်းကို ခံရသော
အခါ၊ အဘယ်သို့ ပြောလိမ့် မည် နည်း။ သူတို့
သည်သင့်ကိုအစိုးတရပြုစေခြင်းငှါ၊ သင်သည်
ကိုယ်တိုင်အကြံပေးပြီ၊ သားဖွားသောမိန်းမခံရ
သောဝေဒနာကိုသင်ခံရလိမ့်မည်မဟုတ်လော။-
၂၂ သင်ကလည်း၊အဘယ်အကြောင်းကြောင့်ဤအ
မှုရောက်သနည်းဟု၊စိတ်ထဲ၌ထောင်းမောင်းလျှင်၊
သင်၏အပြစ်များသောကြောင့်၊ သင့်အဝတ်ကို
၂၃ ချွတ်ရ၏။ခြေနင်းကိုလည်းမစီးရ။-အဲထယောပိ
လူသည် မိမိအရေ၏အဆင်းကိုငှင်၊ ကျားသစ်
သည် မိမိအကွက်အကျားတို့ကိုငှင် ပြောင်းလဲ
နိုင်သလော။ ပြောင်းလဲနိုင်လျှင်၊ဒုစရိုက်ကိုပြု
လေ့ရှိသောသူတို့သည်၊ သုစရိုက်ကို ပြုခြင်းငှါ
၂၄ တတ်နိုင် ကြလိမ့်မည်။- ထိုကြောင့်၊ ဖွဲကိုတော
ခြင်း၊ တိုက်လွှင့်သကဲ့သို့၊ ထိုသူတို့ကို ငါလွင့်စေ
၂၅ မည်။- သင်သည် ငါ့ကိုမေ့လျော့၍၊ မုသာ၌ မှီခို
သည်။ ကံစီ သော ကြောင့်၊ သင့်အမှီ ငါ တိုင်း
ထွာ၍ ပေးထားသောအဝေ၊ အတာကား ဤသို့
၂၆ တည်း။-ထိုသို့နှင့်အညီသင်ရှက်စရာအကြောင်း
ကို ထင်ရှားစေခြင်းငှါ၊ သင်၏ အဝတ်ကိုငါဖွင့်
၂၇ လှစ်၍ ပြမည်။- သင်၏ မျောက်မထားခြင်း၊ ဟီ
မြည်ခြင်း၊ မတရားသော မေထုန်၏ညစ်ညူးခြင်း၊
တောင် ပေါ်၌ငှင်၊ လယ်ပြင်၌ငှင် ပြုသော စက်
ဆုပ် ရွံရှာဘွယ်တို့ကို ငါသိမြင်၏။ ထိုယေရုရှ
လင် မြို့၊ သင် သည် အမင်္ဂလာ ရှိ၏။ သန့်ရှင်း
ခြင်းသို့ မရောက်ဘဲ အဘယ်မျှ ကာလ ပတ်လုံး
နေလိမ့် မည် နည်း ဟု၊ ထာဝရဘုရား မိန့်တော်
မူ၏။

၁၄

၁ မိုဃ်းခြောက်သောအမှုကိုရည်မှတ်၍၊ ယေရမိ
သို့ ရောက်သော ထာဝရဘုရား၏ နှုတ်ကပတ်
၂ တော်ဟူမူကား၊- ယုဒပြည်သည်ညည်းတွားလျက်
မြို့တံခါး တို့၌ ခြည် တမ်း သော အသံရှိ၏။ နက်
သောအဝတ်ကိုမြေတိုင်အောင်ဝတ်၍၊ ယေရုရှ
လင်မြို့သားတို့၏ ငိုကြွေးခြင်းအသံသည် တက်
၃ လေ၏။- မှူးမတ်တို့သည်မိမိသူငယ်တို့ကိုရေခပ်
စေလွှတ်၍၊ သူငယ်တို့သည်ရေကျင်းသို့ရောက်
သောအခါ၊ရေကိုမတွေ့၊ ဗိုးသက်သက်ကိုသာ
ဆောင်ခဲ့လျက် ပြန်လာ ကြ၏။ ဦးခေါင်းကို ချုံ
၄ လျက်ရှက်ကြောက်မှိုင်တွေကြ၏။- မိုဃ်းခြောက်
၍မြေအက်ကွဲသောကြောင့်၊ထယ်ထိုးသောသူ
တို့သည်ဦးခေါင်းကိုချုံလျက်ရှက်ကြောက်ကြ
၅ ၏။- သမင်မသည် လယ်ပြင်၌ မွေးသော အခါ
မြက်မရှိသောကြောင့်၊သားငယ်ကိုစွန့်ပစ်၏။-
၆ မြင်းရိုင်းတို့သည်မြင့်သောအရပ်ပေါ်မှာရပ်လျက်
မြွေးကဲ့သို့ လေကို ရှူကြ ၏။ မြက် မရှိ သော
ကြောင့်၊သူတို့မျက်ပျက်ပျက်လေ၏။
၇ ထိုထာဝရဘုရား၊ အကျွန်ုပ်တို့၏အပြစ်သည်
အကျွန်ုပ်တို့တဖက်၌ သက်သေ ခံသော် လည်း၊
နာမ တော်ကို ထောက် ၍ စီရင် တော် မူပါ။ အ
ကျွန်ုပ်တို့သည် အကြိမ်ဖန် များစွာ လောက်ပြန်ပါ
၈ ပြီ။ကိုယ်တော်ကိုပြစ်မှားပါပြီ။- ဣသရေလ
အမျိုး၏ မျှော်လင့်ရာ အကြောင်း၊ အမှုရောက်
သော ကာလ ကယ် တင် တော် မူ သော အခင်၊
ကိုယ်တော်သည်အကျွန်ုပ်တို့ပြည်၌ ဧည့်သည်
ကဲ့သို့၎င်း၊တညည့်သာအိပ်ခြင်းငှါဝင်သောခရီး
သွားကဲ့သို့၎င်း၊ အဘယ်ကြောင့် ဖြစ်တော် မူသ
၉ နည်း။-မိန်းမောတွေဝေသောသူကဲ့သို့၎င်း၊ကယ်
တင်ခြင်းငှါ မတတ်နိုင်သော သူရဲ ကဲ့သို့၎င်း၊ အ
ဘယ်ကြောင့် ဖြစ်တော် မူသနည်း။ ထိုထာဝရ
ဘုရား၊ကိုယ်တော်သည်အကျွန်ုပ်တို့တွင်ရှိတော်
မူ၏။ အကျွန်ုပ် တို့သည် နာမတော် ဖြင့် သမုတ်
သောသူဖြစ်ပါ၏။အကျွန်ုပ်တို့ကိုစွန့်ပစ်တော်မ
မူပါနှင့်။
၁၀ ဤလူမျိုးကို ရည် မှတ်၍ ထာဝရ ဘုရား မိန့်
တော် မူ သည်ကား၊ ဤလူတို့ သည် လှည့် လည်
ခြင်းငှါ အလွန်အလိုရှိကြ၏။မိမိတို့ခြေကိုမချုပ်
တည်းကြ။ ထိုကြောင့်၊ ထာဝရဘုရားနှစ်သက်
တော်မမူ။ သူတို့ပြုသောဒုစရိုက်ကို အောက်မေ့
၍၊ သူတို့ အပြစ် များ၊ ကြောင့် စစ်ကြော တော်မူ

၁၁ မည်။- ထာဝရဘုရားသည် ငါ့အား မိန့်တော်မူ
သည်ကား၊ ဤလူမျိုးအဖို့မေတ္တာသို့၍ဆုမတောင်း
၁၂ နှင့်။- သူတို့သည် အစာရှောင်ခြင်း အကျင့်ကို
ကျင့်သောအခါ၊ သူတို့အော်ဟစ်သံကို ငါနားမ
ထောင်။ မီးရှို့ရာယဇ်ကိုသော်၎င်း၊ ပူဇော်သကာ
ကိုသော်၎င်း ဆက်ကပ် သော အခါ ငါလက်မခံ။
ထားထေး၊ ငွတ်သိပ်ခြင်းဘေး၊ ကာလနာဘေး
ဖြင့်၊ သူတို့ကိုငါဆုံးစေမည်ဟုမိန့်တော်မူလျှင်။-
၁၃ ငါက ထည်း၊ အို အရှင် ထာဝရ ဘုရား၊ ပရော
ဖက်တို့က၊ သင်တို့သည် ထားဘေးကိုမတွေ့ရကြ။
ငွတ်သိပ်ခြင်းဘေးသည် သင်တို့ရှိရာသို့မရောက်
ရ။ ဤအရပ်၌ မြဲသောငြိမ်သက်ခြင်းကို ငါပေး
မည်ဟု၊ ဤသူတို့အား ဟောပြောကြောင်းကိုငါ
၁၄ လျှောက် သော အခါ၊- ထာဝရ ဘုရားက၊ ထို
ပရောဖက်တို့သည် ငါ၏ နာမကိုအမှီပြု၍ မုသာ
ကို ဟော တတ် ကြ၏။ သူတို့ကို ငါ မစေလွှတ်၊
မမှာထား၊ မှာပိတ်မပေး။ သူတို့ဟောပြောချက်
ထိုသည် မှတ်မိကို ဗျာဒိတ်ခြင်း၊ နတ်ပူးခြင်း၊ အ
ချည်းနှီးကြံစည်ခြင်း၊ မိမိညာဏ်အတုံးထွည့်
စားခြင်းသက်သက်ဖြစ်ကြ၏။
၁၅ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဤပြည်
၌ထားဘေး၊ ငွတ်သိပ်ခြင်းဘေး မရှိရဟု၊ ငါ မ
စေလွှတ်ဘဲ၊ ငါ့နာမကို အမှီပြု၍၊ ကိုယ်အလိုအ
လျောက်ဟောပြောသောပရောဖက်တို့သည်ထား
ဘေး၊ ငွတ်သိပ်ခြင်းဘေးဖြင့်ဆုံးရကြလိမ့်မည်။-
၁၆ သူတို့၏တရားနာပရိသတ်တို့သည်၊ ကိုယ်တိုင်မှ
စ၍၊ မယား၊ သားသမီးတို့နှင့်တကွ ငွတ်သိပ်ခြင်း
ဘေး၊ ထားဘေးကြောင့်၊ ယေရုရှလင်မြို့လမ်း
ထဲသို့ပြစ်ချခြင်းကို ခံရ၍၊ အဘယ်သူမျှမသင်္ဂြိုဟ်
ရ။ သူတို့၏ အပြစ်ကို သူတို့အပေါ် သို့ ငါ
၁၇ သွန်းထောင်းမည်။- သင်သည်ထိုသူတို့အား
ပြောရမည်စကားဟူမူကား၊ ငါသည်နေ့ညဉ့်မ
ပြတ်မျက်ရည်ကျရမည်။ ငါ၏လူမျိုး သတို့သမီး
သည် အလွန်ပြင်းစွာသောဒဏ်ချက်ကို ခံရ၍
၁၈ အမှီများကိုး၍ယိုယွင်းပြီ။- ငါသည် မြို့ပြင်သို့ သွား
သော အခါ၊ သတ်သော အသေကောင်များကို
တွေ့ရ၏။ မြို့ထဲသို့ ဝင်သော အခါ၊ ငတ်မွတ်၍
နာကြင်စွာ ခံရသောသူများကိုလည်း တွေ့ရ၏။
ပရောဖက်နှင့်ယဇ်ပုရောဟိတ်တို့သည်အဘယ်
အမှုကိုမျှ မသိဘဲ အရပ်ရပ်လှည့်လည်ကြ၏။-
၁၉ ကိုယ်တော်သည် ယုဒပြည်ကို အကုန် အစင်
ပယ်တော်မူသလော၊ ဇိအုန်မြို့ကို စက်ဆုပ်၍
ရွံရှာတော်မူသလော။ ချမ်းသာ မရ အောင် အ
ကျွန်ုပ်တို့ကိုအဘယ်ကြောင့် ဒဏ်ခတ်တော်မူ
သနည်း။ အကျွန်ုပ်တို့သည် ငြိမ်သက်ခြင်းကို
မျှော်လင့်သော်လည်း၊ ကောင်းကျိုးကို မရကြ
ပါ။ ချမ်းသာကိုမျှော်လင့်သော်လည်း၊ ဘေးနှင့်
၂၀ သာတွေ့ရကြပါ၏။-အိုထာဝရဘုရား၊ အကျွန်ုပ်
တို့သည် ကိုယ်ဒုစရိုက်များနှင့် ဘိုးဘေးတို့၏
အပြစ်များကိုဝန်ချပါ၏။ ကိုယ်တော်ကိုပြစ်မှား
၂၁ ပါပြီ။- ကိုယ်တော်၏နာမကြောင့်၊ အကျွန်ုပ်တို့
ကို စက်ဆုပ် ရွံရှာ တော် မမူပါနှင့်။ ဘုန်းတော်
ပလ္လင်၏ အသရေကို ရှုတ် ချ တော် မ မူ ပါ နှင့်။
အောင်းမေ့တော်မူပါ။ အကျွန်ုပ်တို့နှင့် ဖွဲ့သော
၂၂ ပဋိညာဉ်တော် ကို ဖျက်တော်မမူပါနှင့်။- သာ
သနာပလူတို့ ကိုးကွယ်သော ရုပ်တု ဆင်းတု တို့
တွင်၊ မိုဃ်း ရွာစေ နိုင် သော သူ ရှိပါ သလော။
မိုဃ်း သည် အလိုလို ရွာ နိုင် ပါ သ လော။ အ
ကျွန်ုပ် တို့ ဘုရား သခင် ထာဝရ ဘုရား၊ ကိုယ်
တော် သာလျှင် တတ် နိုင်တော် မူသည် မဟုတ်
လော။ သို့ဖြစ်၍၊ ကိုယ်တော်ကိုမျှော်လင့်လျက်
နေပါမည်။ ကိုယ်တော်သည် အလုံးစုံတို့ကိုဖန်
ဆင်းသောဘုရားဖြစ်တော်မူ၏။

၁၅

၁ ထိုနောက်ထာဝရဘုရားသည် ငါ့အားမိန့်တော်မူ
သည်ကား၊ မောရှေနှင့်ရှမွေလသည် ရှေ့မှာဆု
တောင်းသော်လည်း၊ ဤလူမျိုးကိုငါမသနား။ ငါ
၂ ထံမှထွက်သွားစေခြင်းငှါနှင်ထုတ်လော့။- အ
ကျွန်ုပ်တို့သည် အဘယ်အရပ်သို့ ထွက်သွားရ
ပါမည်နည်းဟု မေးမြန်းလျှင်၊ သင်ကလည်း၊
သေတန်သောသူတို့သည် သေခြင်းသို့၎င်း၊ ကွပ်
မျက်တန်သောသူတို့သည်ကွပ်မျက်ခြင်းသို့၎င်း၊
ငတ်မွတ်တန်သောသူတို့သည် ငတ်မွတ်ခြင်းသို့
၎င်း၊ သိမ်းသွား ချုပ်ထားတန်သော သူတို့သည်
သိမ်းသွားချုပ်ထားခြင်းသို့၎င် ထွက်သွားကြ
ဟု၊ ထာဝရဘုရားမိန့်တော်မူကြောင်းကို၊ သူတို့
၃ အားဆင့်ဆိုလော့။-သူတို့ကိုသတ်ရသောထား၊
ဆွဲဖြတ် ရသောခွေး၊ ကိုက် စား ရ သော မိုဃ်း
ကောင်းကင်ငှက်နှင့် သားရဲတည်းဟူသောရန်
သူလေးမျိုးကို သူတို့တဖက်၌ငါခန့်ထားမည်။-
၄ ယုဒရှင်ဘုရင် ဟေဇကိသား မနာရှေမင်းသည်
ယေရုရှလင်မြို့၌ပြုသောအမှုကြောင့်၊ ထိုသူတို့
ကိုမြေကြီးပေါ်မှာအတိုင်းတိုင်းအပြည်ပြည်တို့၌
၅ အနှောင့်အရှက်ကိုခံစေမည်။- အိုယေရုရှလင်

ချို၊ ထင်ငကို အဘထယ်သူ အနား လိမ့်မည်နည်း။
သင်နှင့်အထူအဘထယ်သူ ညည်းတွား လိမ့်မည်
နည်း။ သင့်ကို ကျန်းမာ၏လောဟု မေးဆဲ့သော
၆ ငှါအဘထယ်သူလမ်းလွှဲလိမ့်မည်နည်း။-ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ သင်သည်ငါကိုစွန့်
ပြစ်၍ဆုတ်သွားပြီ။ ထိုကြောင့်၊ ငါသည်ထက်
ကိုဆန့်၍သင့်ကိုဖျက်ဆီးမည်။ ငါသည် နောင်
၇ တရ၍ ညီးငွေ့ပြီ။- ပြည်တံခါးဝ၌ သူတို့ကိုစံ
ကောနှင့်ငါလှေ့မည်။ သူတို့သားသွီးများကို ငါ
ရှုံးစေမည်။ ငါ၏လူမျိုးသည် မိမိလိုက်သွားသော
လမ်းမှမပြန်လာသောကြောင့်၊ သူတို့ကိုငါဖျက်
၈ ဆီးမည်။-သူတို့မုဆိုးမတို့သည်သမုဒ္ဒရာသဲလုံး
နှင့်အမျှမက၊ ငွေမှာ များပြား ကြလိမ့်မည်။
ခွန်းတည့်အချိန်၌အမိကိုတိုက်ဖျက်သောလုလင်
ကိုငါခေါ်ခဲ့၍၊ကြောက်မက်ဖွယ်သောလုပ်ကြံ
၉ ခြင်းကိုချက်ချင်းဖြစ်စေမည်။-သားခုနစ်ယောက်
ကိုဘွားမြင်သောမိမ္မသည်အားလျော့၍အသက်
ချုပ်လေ၏။ညအချိန်မရောက်မှီသူ၏နေဝင်လေ
၏။ သူသည်ရှက်ကြောက်မှိုင်တွေလျက်နေရ၏။
ကျန်ကြွင်းသောသူတို့ကိုလည်း၊ ရန်သူတို့ရှေ့
မှာ၊ ထားဖြင့် ငါအပ်မည် ဟု၊ ထာဝရ ဘုရား မိန့်
တော်မူ၏။

၁၀ အိုမိခင်၊ ငါ၌အမင်္ဂလာရှိ၏။ မိခင်သည် တ
ပြည်လုံးရန်တွေ့သောသူ၊ ငြင်းဆန်သောသူဖြစ်
သော ငါကို ဖွားမြင်ပါပြီ။ ငါသည် သူတပါးကို
အတိုးနှင့် မချေး။ သူတပါးသည်လည်း ငါ့ကိုအ
တိုးနှင့်မချေး။ သို့သော်လည်း၊ လူခပ်သိမ်းတို့
၁၁ သည်ငါ့ကိုကျိန်ဆဲတတ်ကြ၏။- ထာဝရဘုရား
မိန့်တော်မူသည်ကား၊အကယ်စင်စစ်သင့်ကိုငါ
ချမ်းသာ ပေးမည်။ အမှု ရောက်သော ကာလ၊
ညှဉ်းဆဲခြင်းကို ခံရသောကာလ၌၊ရန်သူသည်
သင့်ထံမှာတောင်းပန်မည်အကြောင်း၊အကယ်
စင်စစ်ငါစီရင်မည်။

သံချွန်း တိုက်သော အခါ၊ မြောက်ပြည် သံကို
၁၂ ၎င်း၊သံမဏိကို၎င်းချိုးနိုင်သလော။-သင်၏ပြည်
တရှောက်လုံး၌သင်ပြုသောအပြစ်များကြောင့်၊
သင်၏ဥစ္စာဘဏ္ဍာကို အဘိုးမခံဘဲ လုယူသော
၁၃ သူ့အိုလက်သို့ငါပေးမည်။-သင်မသိသောပြည်
သို့ရန်သူနှင့်အတူသင့်ကိုငါသွားစေမည်။ သင်
တို့ကိုလောင်သောမီးသည် ငါ့အမျက်အားဖြင့်ညှိ
လျက်ရှိ၏။
၁၅ အိုထာဝရဘုရား၊ ကိုယ်တော်သည်အဲတော်

မူ၏။ အကျွန်ုပ်ကိုအောင်းမေ့လျက် အကြည့်အ
ရှုကြွလာ၍၊ အကျွန်ုပ်ကို ညှဉ်းဆဲသော သူတို့
ကို တရားသဖြင့် ဒါဏ်ပေးတော်မူပါ။ သူတို့ကို
သည်းခံ၍၊အကျွန်ုပ်ကိုသုတ်သင်ပယ်ရှင်းတော်
မမူပါနှင့်။ အကျွန်ုပ်သည် ကိုယ်တော် အတွက်
ကဲ့ရဲ့ခြင်း ခံရ ကြောင်းကို အောင်း မေ့ တော်မူ
၁၆ ပါ။- ကောင်းကင်ဗိုလ်ခြေ အရှင် ဘုရား သခင်
ထာဝရဘုရား၊ အကျွန်ုပ်တွေ့သော နှုတ်ကပတ်
တော် စကား ကို ခံယူ ပါပြီ။ နှုတ် ကပတ် တော်
သည် အကျွန်ုပ် ဝမ်းမြောက် ရွှင်ထန်း စရာ အ
ကြောင်း ဖြစ်ပါ၏။ နာမတော်ဖြင့် အကျွန်ုပ်ကို
၁၇ ခေါ်ဝေါ်ပါ၏။- ပွဲခံသောသူ အစည်းအဝေး၌
အကျွန်ုပ်မထိုင်ပါ။ ပျော်ရွှင်ခြင်းအမှုကိုမပြုပါ။
လက်တင် တော် မူသော ကြောင့်၊ တ ယောက်
တည်းထိုင်ပါပြီ။ အကျွန်ုပ်ကိုဒေါသအမျက်နှင့်
၁၈ ပြည့်စေတော်မူပြီ။- အကျွန်ုပ်ခံရသော ဝေဒနာ
သည်အဘယ်ကြောင့် မြဲပါသနည်း။ မကျွတ်
လို၊မပျောက်နိုင်သောအနာကို အဘယ်ကြောင့်
ခံရပါသနည်း။ အကယ်စင်စစ်ကိုယ်တော်သည်
ပျောက်တတ်၍၊ ဖွည့်စား သော ရေ ကဲ့သို့ အ
ကျွန်ုပ်၌ဖြစ်တော်မူပါပြီတကား။
၁၉ ထိုကြောင့်၊ ထာဝရဘုရား မိန့်တော် မူသည်
ကား၊ သင်သည်ပြန်လာလျှင်၊သင့်ကိုငါဆောင်
ခဲ့၍၊ သင်သည် ငါ၏ အမှုကို ထမ်းရလိမ့် မည်။
သင်သည် မြတ်သောအရာနှင့် ယုတ်သောအရာ
တို့ကို ခိုင်းခြား ခွဲထားလျှင်၊ ငါ့နှုတ် ကဲ့သို့ ဖြစ်ရ
လိမ့်မည်။ သူတို့သည်သင့်ထံသို့ပြန်လာကြလိမ့်
မည်။ သင်သည်သူတို့ ရှိရာသို့ပြန်၍ မသွားရ။-
၂၀ ငါသည်လည်း၊ သင့်ကို ဤလူ မျိုး တစ်ကြိုမ်ခိုင်ခံ့
သောကြေးဝါမြို့ရိုးဖြစ်စေမည်။သူတို့သည်သင့်
ကိုတိုက်၍မနိုင်ရကြ။ ငါသည်သင့်ကို နှုတ်ယူ
၂၁ ကယ်တင်ခြင်းငှါ သင့်အထက်၌နေမည်။-. လူဆိုး
လက်မှ သင့်ကို ငါနှုတ်၍၊ ကြောက်မက် ဖွယ်
သောသူတို့လက်မှရွေးယူမည်ဟု၊ထာဝရဘုရား
မိန့်တော်မူ၏။

## ၁၆

၁ တဖန်ငါဆီသို့ ရောက်သော ထာဝရဘုရား ၏
၂ နှုတ်ကပတ်တော် ဟူ မူကား၊- သင်သည် ဤအ
ရပ်၌ စုံဖက်ခြင်းကိုမပြုရ။ သားသမီးကို မ ဖွားမ
၃ မြင်ရ။- ဤအရပ်၌ ဖွားမြင်သော သားသမီးများ
ကို၎င်း၊သူတို့မိဘများကို၎င်း၊ ထာဝရဘုရားရည်
၄ မှတ်၍ မိန့်တော်မူသည်ကား၊- ထိုသူတို့သည်



 

ဆိုးသောသေခြင်းဖြင့်သေရကြလိမ့်မည်။ထိုသူတို့
ကိုမြည်တမ်း၍မသင်းဂြိုဟ်ရ၊ မြေပေါ်မှာမစင်
ကဲ့သို့ဖြစ်ကြလိမ့်မည်၊ သူတို့သည်ထားဘေးနှင့်
မွတ်သိပ်ခြင်းဘေးဖြင့်ဆုံးခြင်းသို့ရောက်၍၊ အ
သေကောင်တို့သည် မိုဃ်းကောင်းကင် ငှက်နှင့်
၅ တောသားရဲ စားစရာတို့ဖြစ်ကြလိမ့်မည်။- ထာ
ဝရဘုရားမိန့်တော်မူသည်ကား မသာအိမ်သို့
မဝင်နှင့်၊ သေသောသူတို့အတွက် ငိုကြွေးမြည်
တမ်းခြင်းငှါ မသွားနှင့်၊ ငါ၏ ငြိမ် သက် ခြင်း
တည်းဟူသော မေတ္တာ ကရုဏာကို ဤလူမျိုးမှ
၆ ငါပယ်ရှင်းပြီ ဟု မိန့်တော်မူ၏။- ကြီးသူငယ်သူ
သားအကြီးအငယ်တို့သည်သေရကြလိမ့်မည်၊
သို့သော်လည်း၊ မသင်းဂြိုဟ်ရ၊ သူတို့အတွက်
မြည်တမ်းခြင်းကိုမပြုရ၊ကိုယ်ကိုကိုယ်ရှနခြင်း၊
၇ ဆံပင် ရိတ်ခြင်းကိုလည်းမပြုရ။- သေသောသူ
တို့အတွက် မိတ်မသာ ညည်းတွားသော သူတို့
ကိုနှစ်သိမ့်စေခြင်းငှါ၊ မသာပွဲကိုမထုတ်ရ၊ မိဘ
သေသော်လည်း၊ နှစ်သိမ့်စေသော ခွက်ဖလား
ကိုမပေးရ။
၈ ထိုနည်းတူ၊ စားသောက်ပွဲခံရာ အိမ်သို့မဝင်
နှင့်၊ သူတို့ နှင့် ပေါင်းဖော်၍ မစား မသောက်
၉ နှင့်။- ဣသရေလအမျိုး၏ ဘုရားသခင်၊ ကောင်း
ကင် ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့် တော်မူ
သည်ကား၊ ဤအရပ်၌ဝမ်းမြောက်သောအသံ၊
ရွှင်လန်းသောအသံ၊ မင်္ဂလာဆောင်သတို့သား
အသံ၊ မင်္ဂလာဆောင်သတို့သမီးအသံကို သင်တို့
ထက်ထက်၊ သင်တို့ ရှုတ် မှောက် တွင် ငါ စဲစေ
၁၀ မည်။- သင်သည်ဤစကားအလုံးစုံတို့ကို ဤလူ
မျိုးအား ကြား ပြော၍ သူတို့ကလည်း၊ ထာဝရ
ဘုရားသည်ဤမျှသောကြီးစွာသောဘေးဒဏ်
ကိုငါတို့အား အဘယ် ကြောင့် မိရပ်တော် မူသ
နည်း၊ ငါတို့ပြုသောဒုစရိုက်ကား၊ အဘယ်သို့
နည်း၊ ငါတို့ဘုရားသခင်ထာဝရဘုရားကိုငါတို့
ပြစ်မှားသော အပြစ်ကား၊ အဘယ်သို့ နည်းဟု
၁၁ မေးကြသောအခါ၊- သင်သည်ထာဝရဘုရား၏
အမိန့်တော်ကို ဆင့်ဆိုရမည်မှာ၊ သင်တို့၏ဘိုး
ဘေးတို့သည် ငါကို စွန့်၍၊ အခြား တပါး သော
ဘုရားနောက်သို့လိုက်လျက်၊ ဝတ်ပြုကိုးကွယ်
သဖြင့် ငါကိုစွန့်ပြစ်၍၊ ငါ့တရားကိုမစောင့်သော
၁၂ ကြောင့်၎င်း၊- ထိုဘိုးဘေးကျင့်သောအကျင့်ထက်၊
သင်တို့သည် သာ၍ဆိုးသောအကျင့်ကို ကျင့်သ
ဖြင့်၊ စကားကိုနားမထောင်၊ မိမိတို့ဆိုးသော
မိတ်နှလုံးမိုက်မှားသောသဘောသို့လိုက်သော
၁၃ ကြောင့်၎င်း၊- သင်တို့နှင့်သင်တို့၏ဘိုးဘေးမသိ
သောပြည်သို့ဤပြည်ထဲကသင်တို့ကိုငါနှင်ထုတ်
မည်၊ထိုပြည်၌သင်တို့သည်ငါ၏ကျေးဇူးကိုမခံ
ရ၊ အခြားတပါးသော ဘုရားတို့ကို နေ့ညဉ့်
မပြတ်ဝတ်ပြုရကြမည်။
၁၄ ထို့ ဖြစ် ၍၊ ထာဝရ ဘုရား မိန့် တော် မူ သည်
ကား၊ ဣသရေလအမျိုးသားတို့ကိုအဲဂုတ္တုပြည်
မှနှုတ် ဆောင်သော ထာဝရဘုရား အသက် ရှင်
၁၅ တော်မူသည်ဟူ၍မကျိန်ဆိုဘဲ၊- ဣသရေလအ
မျိုးသားတို့ကို မြောက်ပြည်မှစ၍ နှင်ထုတ်ထား
သောပြည်ရှိသမျှတို့မှ နှုတ်ဆောင်သောထာဝရ
ဘုရားအသက်ရှင်တော်မူသည်ဟူ၍ ကျိန်ဆိုရ
သောကာလသည်နောက်တဖန်ရောက်လိမ့်မည်၊
သူတို့ဘိုးဘေးတို့အား ငါပေးသော ပြည်သို့ သူ
တို့ကိုတဖန်ငါဆောင်ခဲ့ဦးမည်။
၁၆ ထာဝရဘုရားမိန့်တော်မူသည်ကား၊ငါသည်
တံငါအများတို့ကို စေလွှတ်၍၊ ဤလူမျိုးကိုရှာ
စေမည်၊ ထိုနောက်၊မုဆိုးအများတို့ကိုစေလွှတ်
၍၊ ခပ် သိမ်းသော တောင် ကြီး တောင်ငယ်၊
၁၇ ကျောက်ကြားတို့၌ရှာစေမည်။-သူတို့သွားသမျှ
သောလမ်းတို့ကို ငါသည်ကြည့်ရှု လျက် နေ၏၊
သူတို့သည်မျက်ကွယ်၌သွားကြသည်မဟုတ်၊
သူတို့၏ဒုစရိုက်ကို ငရှေ့မှာဝှက်၍ မထားနိုင်။-
၁၈ သူတို့သည် ပြည်ကို ညစ်ညူးစေ၍၊ ငါအမွေခံ
သောမြေကိုသူတို့သည်စက်ဆုပ်ရွံရှာဖွယ်သော
အသေကောင်တို့နှင့် ပြည့်စေသောကြောင့်၊ သူ
တို့၌နှစ်ဆသောအပြစ်ဒဏ်ကိုငါပေးမည်။
၁၉ အကျွန်ုပ်အစွမ်းသတ္တိ၊ အကျွန်ုပ်ခိုလှုံ၊အ
မှုရောက်သောနေ့၌အကျွန်ုပ် ပုန်းရှောင်ရာ ဖြစ်တော်
မူသောထာဝရဘုရား၊ တပါးအမျိုးသားတို့က၊
အကယ်စင်စစ် အကျွန်ုပ်တို့ဘိုးဘေးတို့သည်ရ
သာ၊အနတ္တ၊အကျိုးမရှိသောအရာတို့ကိုအမွေ
ခံကြပါပြီဟု၊ မြေကြီးစွန်းမှ ကိုယ်တော် ထံသို့
၂၀ လာ၍လျှောက်ကြပါလိမ့်မည်။-လူသည်ဘုရား
မဟုတ်သောဘုရားတို့ကို ကိုယ်အဖို့ လုပ်ရမည်
၂၁ လော။-သို့ဖြစ်၍၊ငါသည်ယခုတခါသူတို့ကိုသ
တိပေး၍၊ ငါ့လက်နှင့် ငါ့တန်ခိုးကို ဖော်ပြသော
အား ဖြင့်၊ ငါ့နာမသည် ထာဝရ ဘုရား ဖြစ်
ကြောင်းကိုသိရကြလိမ့်မည်။

၁၇

၁ ယုဒအမျိုး၏ အပြစ်သည် သံကညစ်၊ မိန့်ချွန်

နှင့်သူတို့နှစ်လုံးပြားခြင်း၊ထင်ပေါ်ပသွင်ဦးဖြန့်ခြင်း
၂ အကျရာတင်၍မှတ်သားလျက်ရှိ၏၊- သူငယ်တို့
စင်ကြင်သောတောင်ပေါ်၊ မိမ်းသောသစ်ပင်နား
မှာရှိသောထင်ပေါ်ပသွင်များ၊ အာရှရပင်များကို
၃ အောင်းမေ့တတ်ကြ၏၊- အချင်း ငါ၏တောင်၊
ထက်၌ ရှိသော သင်၏ဥစ္စာ နှင့် သိုထားသမျှ
သောဥစ္စာကိုငှင်၊ ပြည်တရှောက်လုံး၌သင်ပြစ်
မှားရာ၊မြင့်သောအရပ်တို့ကိုငှင်၊လုယူသောသူ
၄ တို့ထက်သို့ငါအပ်မည်၊-သင့်ကိုယ်တိုင်ထည်း
ငါပေးသောအမွေမှရွေ့သွားရလိမ့်မည်၊ သင်မ
သိသောပြည်တွင်၊ရန်သူလက်၌သင့်ကိုငါကျွန်
ခံစေမည်၊ အကြောင်းမူကား၊ အစည်လောင်
သောငါ၏အမျက်မီးကိုသင်တို့သည်မွှေးကြပြီ၊
၅ ထာဝရဘုရား မိန့်တော်မူသည်ကား၊ လူကို
ကိုးစား၍ လူသတ္တဝါကိုအမှီပြုသဖြင့်၊ စိတ်နှစ်
လုံးထဲ၌ ထာဝရဘုရား ထံတော်မှ ထွက်သွား
၆ သောသူသည် ကျိန်အပ်သောသူဖြစ်၏၊- ထိုသူ
သည်လွင်ပြင်၌ ရှိသော သစ်ပင် ခြောက် ကဲ့သို့
ဖြစ်၍၊ ကောင်းကျိုးရောက်ကြောင်းကို မသိရ၊
အထယ်သူမျှ မနေသော ဆားမြေ၊ သွေ့ခြောက်
၇ သောလွင်ပြင်၌နေရလိမ့်မည်၊- ထာဝရဘုရား
ကိုကိုးစားသောသူ၊ထာဝရဘုရားကိုမိမိကိုးစား
ရာအကြောင်းဖြစ်စေသောသူသည်ကောင်းကြီး
၈ မင်္ဂလာကို ခံအပ်သော သူဖြစ်၏၊- ထိုသူသည်
ကား၊ ရေရှိသောအရပ်၌ စိုက်၍ မြစ်နားမှာအ
မြစ်ဖြာသဖြင့်၊ ပူသောအချိန်ရောက်ကြောင်းကို
မသိ၊ အရွက်မညှိုးနွမ်း၊ မိုဃ်းခေါင်သောကာ
လ၌စိုးရိမ်စရာမရှိဘဲ၊ အစဉ်အမြဲအသီးကိုသီး
တတ်သောအပင်နှင့်တူ၏၊
၉ စိတ်နှစ်လုံးသည် ခပ်သိမ်းသော အရာထက်
စည်းလဲတတ်၏၊ အလွန်ယိုယွင်းသောသဘော
ရှိ၏၊ စိတ်နှစ်လုံးသဘောကို အဘယ်သူသိနိုင်
၁၀ သနည်း၊- ငါထာဝရဘုရားသည် လူအသီးအ
သီးတို့အားမိမိတို့အကျင့်အတိုင်း၊မိမိတို့ခံထိုက်
သော အကျိုး အပြစ် ကို ပေးခြင်း ငှါ၊ နှစ် လုံး
ကျောက် ကပ် တို့ကို နှိုးဆော်စစ်ကြောတတ်၏၊-
၁၁ ခါရင်ငှက်သည်မိမိမဥသောဥကိုဝပ်သကဲ့သို့၊
မတရားသဖြင့် ဥစ္စာဆည်းဖူးသောသူသည်အ
သက်ပိုင်စည်ကပင်၊ ဆင်းရဲခြင်းသို့ရောက်၍အ
ဆုံး၌ကား၊လူမိုက်ဖြစ်လိမ့်မည်၊
၁၂ ရှေးဦးစွာမှစ၍ မြင့်သောအရပ်၌ ဘုန်းကြီး
ထော်မူသောရာဇပလ္လင်သည်ငါတို့သန့်ရှင်းရာ
၁၃ ဌာနတော်အရပ်ဖြစ်၏၊- ဣသရေလ၏ အမျိုး
၏မျှော်လင့်စရာအကြောင်းဖြစ်သော ထာဝရ
ဘုရား၊ ကိုယ်တော်ကိုစွန့်ပြစ်သောသူအပေါင်း
တို့သည်အရှက်ကွဲရကြပါလိမ့်မည်၊ငါ့ထံမှထွက်
သွားသောသူတို့သည်မြေ၌ရေးခြင်းသို့ ဝင်ရကြပါ
လိမ့်မည်၊ အကြောင်းမူကား၊ အသက်စမ်းရေ
တွင်း၊တည်းဟူသော ထာဝရဘုရားကို စွန့်ပြစ်
၁၄ ကြသတည်း၊- အိုထာဝရဘုရား၊အကျွန်ုပ်၏အ
နာကို ငြိမ်းစေတော်မူပါ၊ သို့ပြုလျှင်၊ အကျွန်ုပ်
သည်အနာငြိမ်းပါလိမ့်မည်၊ အကျွန်ုပ်ကိုကယ်
တင်တော်မူပါ၊ သို့ပြုလျှင်၊အကျွန်ုပ်သည်ကယ်
တင်ခြင်းသို့ ရောက်ပါလိမ့်မည်၊ ကိုယ်တော်
၁၅ သည် အကျွန်ုပ် ချီးမွမ်းရာဖြစ်တော်မူ၏၊- ထာ
ဝရဘုရား၏ နှုတ်ကပတ်တော်သည် အဘယ်
မှာရှိသနည်း၊ ယခုလာပါစေတော့ဟု၊ ဤသူတို့
၁၆ သည်အကျွန်ုပ်အားဆိုတတ်ကြပါ၏၊-အကျွန်ုပ်
သည်နောက်တော်သို့လိုက်သောအရာ၏အရာ
ကိုမရှောင်ပါ၊ အမင်္ဂလာနေ့ကို မတောင့်တပါ၊
အကျွန်ုပ်ဟောပြောချက်ကိုကိုယ်တော်သိတော်
၁၇ မူ၏၊ကိုယ်တော်မျက်မှောက်၌ရှိပါ၏၊-အကျွန်ုပ်
ကို ထိတ်လန့်စေတော် မမူပါနှင့်၊ ဘေးရောက်
သောကာလ၌ ကိုယ်တော်သည် အကျွန်ုပ်မှီခို
၁၈ ရာဖြစ်တော်မူ၏၊- အကျွန်ုပ်ကို ညှဉ်းဆဲသော
သူတို့သည်အရှက်ကွဲကြပါစေသော၊အကျွန်ုပ်မူ
ကား၊ အရှက် မကွဲ ပါစေနှင့်၊ သူတို့သည် စိတ်
ပျက်ကြ ပါစေသော၊ အကျွန်ုပ် မူကား၊ စိတ်မ
ပျက်ပါစေနှင့်၊ သူတို့အပေါ်မှာဘေးအန္တရာယ်
ကာလကိုရောက်စေတော်မူပါ၊အထပ်ထပ်ဖျက်
ဆီးတော်မူပါ၊
၁၉ ထာဝရဘုရားသည် ငါ့အားမိန့်တော်မူသည်
ကား၊ ယုဒရှင်ဘုရင်ထွက်ဝင်သော အမျိုးသား
ချင်းမြို့တံခါးမှစ၍၊ ခပ်သိမ်းသောယေရုရှလင်
၂၀ မြို့တံခါးဝ၌သွား၍ရပ်လျက်၊- လူများတို့အား
ပြောဆိုရမည်မှာ၊ဤတံခါးတို့ဖြင့်ထွက်ဝင်သော
ယုဒရှင်ဘုရင်များနှင့် ယုဒပြည်သူ ယေရုရှလင်
မြို့သားများအပေါင်းတို့၊ ထာဝရဘုရား၏နှုတ်
၂၁ ကပတ်တော်ကိုနားထောင်ကြလော့၊- ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ဥပုသ်နေ့၌ဝန်ကို
မထမ်းမရွက်၊ယေရုရှလင်မြို့တံခါးဖြင့်မဆောင်
မသွင်းမည် အကြောင်း၊ သတိပြုကြ လော့၊-
၂၂ ဥပုသ် နေ့၌ သင်တို့ အိမ်ထဲက ဝန်ကို မထုတ် မ
ဆောင်ကြနှင့်၊ အဘယ်အလုပ်ကိုမျှမလုပ်ကြ

နှင့်ထင်ထို့ထိုးဆေးများ၏ငါမှာထားသည်အ
၂၄ တိုင်း၊ ဥပုသ်နေ့ကိုသန့်ရှင်းစေကြလော့။ ထိုး
ထေးတို့သည် နားမထောင်၊ နားကို မဖွင့်ဘဲ
နေကြ၏၊ နားမကြား၊ ဆုံးမခြင်းကို မခံမည်အ
၂၅ ကြောင်း၊ မိမိတို့လည်ပင်းကိုခိုင်မာစေကြ၏။ ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သင်တို့သည်ဥ
ပုသ်နေ့၌ဤမြို့တံခါးဖြင့်ဝန်ကိုမဆွင်းမဆောင်၊
အထထ် အလုပ်ကိုမျှမလုပ်၊ ဥပုသ်နေ့ကို သန့်
ရှင်းစေသည်တိုင်အောင်၊ ငါ့စကားကိုစေ့စေ့နား
၂၆ ထောင်လျှင်၊ ဒါဝိဒ်မင်းကြီး၏ရာဇပလ္လင်ပေါ်
မှာထိုင်သောရထားစီး၊ မြင်းစီးရှင်ဘုရင်၊ မင်း
သားမှစ၍ ယုဒမှူးမတ်၊ ယုဒပြည်သူ၊ ယေရုရှ
လင်မြို့သားတို့သည်ဤမြို့တံခါး၊ များသို့ဝင်လျက်
ရှိကြလိမ့်မည်။ ဤမြို့သည်လည်း အစဉ်အမြဲ
၂၇ တည်လိမ့်မည်။-မီးရှို့ရာယဇ်မှစ၍အခြားသော
ယဇ်များ၊ ပူဇော်သကာများ၊ မီးရှို့ရာ နံ့သာ
ပေါင်း၊ ချီးမွမ်းရာယဇ်တို့ကို ထာဝရဘုရား၏
အိမ်တော်သို့ ဆောင်ခဲ့သောသူတို့သည် ယုဒမြို့
များ၊ ယေရုရှလင်မြို့ပတ်ဝန်းကျင် အရပ်များ၊
ဗင်္ယာမိန်ပြည်၊ မြေညီခရိုင်၊ တောင်မိုးခရိုင်၊
၂၈ တောင်ဗျက်နှာခရိုင်မှ လာကြလိမ့်မည်။- သို့မ
ဟုတ်၊ ဥပုသ်နေ့၌ ဝန်ကိုထမ်းရွက်၍၊ ယေရုရှ
လင်မြို့တံခါး များသို့ မဝင်၊ ဥပုသ်နေ့ကို သန့်
ရှင်းစေသည်တိုင်အောင်၊ သင်တို့သည်ငါ့စကား
ကိုနားမထောင်လျှင်၊ ငါသည်ထိုမြို့တံခါးတို့ကို
မီးရှို့၍၊ ထိုမီးသည်မငြိမ်းမသေဘဲယေရုရှလင်
မြို့၊ ဘုံဗိမာန်တို့ကိုလောင်ရလိမ့်မည်။

၁၈

၁ ယေရမိသို့ ရောက်လာသောထာဝရဘုရား၏
၂ နှုတ်ကပတ်တော် ဟူမူကား၊- ထင်သည်ထ၍
အိုးထိန်းသမားအိမ်သို့သွားလော့၊ ထိုအရပ်၌ငါ
စကားကိုငါကြားစေမည်ဟုမိန့်တော်မူသည်အ
၃ တိုင်း၊- ငါသည်သွား၍၊ အိုးထိန်းစက်နှင့်လုပ်
၄ လျက်ရှိသောအိုးထိန်းသမားကိုတွေ့၏။ အိုးမြေ
ဖြင့်လုပ်သောအိုးသည်၊ အိုးထိန်းသမားလက်၌
ပျက်စီးသောကြောင့်၊ သူသည်အလိုအလျောက်
အသစ်ပြုလုပ်၍၊ အခြားသော အိုးကို လုပ်ပြန်
၅ လေ၏။- ထိုအခါ ထာဝရဘုရား၏ နှုတ်ကပတ်
တော်သည်ငါ့ဆီသို့ရောက်လာ၍၊ ထာဝရဘုရား
၆ မိန့်တော်မူသည်ကား၊- အိုဣသရေလအမျိုး၊
အိုးထိန်းသမားပြုသကဲ့သို့သင်တို့ကိုငါမပြုနိုင်
သလော၊ အိုဣသရေလအမျိုး၊ အိုးမြေသည်အိုး
ထိန်းသမား၊ လက်၌ ရှိသကဲ့သို့ သင်တို့သည် ငါ
၇ လက်၌ရှိကြ၏။- အကြင်တိုင်းနိုင်ငံကို နှုတ်ပယ်
၈ ဖြိုဖျက်ဖျက်ဆီးခြင်းငှါငါအမိန့်တော်ရှိ၏၊- ငါအမိန့်
တော်နှင့် ဆိုင်သော ထိုတိုင်းနိုင်ငံသည် မိမိဒုစ
ရိုက်ကို စွန့်ပြစ်လျှင်၊ ငါကြံစည်သောဘေးဒဏ်
၉ ကို ငါနောင်တ ရမည်။- အကြင် တိုင်း နိုင်ငံကို
၁၀ တည်ထောင်ပြုစုခြင်းငှါငါအမိန့်တော်ရှိ၏၊- ထို
တိုင်းနိုင်ငံ သည် ငါ့စကား ကို နား မထောင်၊ ငါ
မျက်မှောက်၌ ဒုစရိုက်ကိုပြုလျှင်၊ သူ၏အကျိုး
အလို့ငှါ ပြုစုမည် ဟူသော စကား၌ ပါ သော
ကျေးဇူးကိုငါနောင်တရမည်။
၁၁ ယခုမှာထာဝရဘုရားမိန့်တော်မူသည်ကား၊
သင်တို့အဖို့ ဘေးဒဏ်ကိုငါဖန်ဆင်း၏၊ သင်တို့
ကိုဆန့်ကျင်ဘက်ပြု၍ငါကြံစည်၏၊ သို့ဖြစ်၍၊
ဆိုးသောလမ်းမှအသီးအသီးပြန်လာကြလော့။
သင်တို့လိုက်သောလမ်းနှင့်သင်တို့ကျင့်သောအ
ကျင့်ကိုပြောင်းစေကြလော့ဟု၊ ယုဒပြည်သူ၊ ယေ
၁၂ ရုရှလင်မြို့သားတို့အားဆင့်ဆိုလော့။-သူတို့က
လည်း၊ မျှော်လင့်စရာမရှိ၊ ငါတို့သည်ကိုယ်အ
လိုသို့လိုက်မည်။ ငါတို့၌ဆိုးသောစိတ်နှလုံးခိုင်
မာခြင်းရှိသည်အတိုင်း၊ အသီးအသီးပြုမည်ဟု
၁၃ ဆိုကြ၏။- သို့ဖြစ်၍၊ ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ ထိုသို့သောအမှုကိုအဘယ်သူကြား
ဘူးသနည်းဟု၊ သာသနာပလူတို့တွင် မေးကြ
လော့။ ဣသရေလသတို့သမီးကညာသည်အလွန်
စက်ဆုပ် ရွံရှာဖွယ် သော အမှုကို ပြုလေပြီ။-
၁၄ လွင်ပြင်၌ ရှိသောကျောက်ကိုမစွန့်၊ လေဗနုန်
တောင်၏ မိုးပွင့်ကိုအဘယ်သူစွန့်မည်နည်း။
အခြားတပါးသောအရပ်မှစီးလာ၍ချမ်းသော
၁၅ မြစ်ရေသည်ခန်းခြောက်လိမ့်မည်လော။- ငါ၏
လူတို့သည်ငါ့ကိုမေ့လျော့၍၊ အချည်းနှီးသောအ
ရာရှေ့မှာနံ့သာပေါင်းကိုမီးရှို့ကြပြီ။ ရှေးကာလ
မှစ၍ လိုက်ဘူးသော ထမ်းတို့၌ လဲတတ်သော
ကြောင့်၊ အခြားသောလမ်း၊ မြေမဖို့သောလမ်း
၁၆ သို့လိုက်ကြပြီတကား။- ထိုသို့ပြု၍ မိမိတို့ပြည်
ကိုလူဆိတ်ညံ့ရာအရပ်၊ အစဉ်ကဲ့ရဲ့သံကြားရာ
အရပ်ဖြစ်စေသဖြင့်၊ ထမ်း၌ရှောက်သွားသော
သူအပေါင်းတို့သည်ဖို့ပြော၍၊ မိမိတို့ခေါင်းကို
၁၇ ညိတ်ကြလိမ့်မည်။-ငါသည်အရှေ့လေကဲ့သို့သူ
တို့ကိုရန်သူရှေ့မှာ လွင့်စေမည်။ ဘေး ရောက်
သောကာလ၌သူတို့အားမျက်နှာကိုမပြ၊ ကျော
ကိုပြမည်။

၁၈ ထိုသူတို့ကလည်း၊ လာကြ၊ ယေရမိတဘက်၌ကြံ
စည်ကြကုန်အံ့၊ ယဇ်ပုရောဟိတ်သည် တရား
အမှု၌၎င်း၊ ပညာရှိသောသူသည်အကြံပေးခြင်း
အမှု၌၎င်း၊ ပရောဖက်သည် ဟောပြောခြင်းအမှု
၌၎င်း၊ အရှုံးမခံရ၊ လာကြ၊ ယေရမိကို လျှာနှင့်
ရိုက်ကြကုန်အံ့၊ သူ၏စကားကို နားမထောင်ဘဲ
နေကြကုန်အံ့ဟု ဆိုကြ၏။
၁၉ အိုထာဝရဘုရား၊ အကျွန်ုပ်ကိုကြည့်ရှုတော်
မူပါ၊ အကျွန်ုပ်နှင့်ရန်ဘက်သောသူတို့၏ စကား
၂၀ ကိုမှတ်တော်မူပါ။- ကျေးဇူးပြုသောအတွက်၊
အပြစ်ပေးသင့် ပါမည် လော၊ သူတို့သည် အ
ကျွန်ုပ်အသက်ဘို့တွင်းကိုတူးကြပါပြီ၊ အကျွန်ုပ်
သည် သူတို့အကျိုးအလို့ငှါ လျှောက်၍၊ သူတို့
မှအမျက်တော်ကို လွှဲခြင်းငှါ၊ ရှေ့တော်၌ရပ်နေ
၂၁ ကြောင်းကို အောက်မေ့တော်မူပါ။- ထိုကြောင့်၊
သူတို့ကိုထားသော်၎င်း၊ သူတို့သားသမီးများကို
ထွက်သိမ်ခြင်းသို့၎င်းအပ်တော်မူပါ၊ သူတို့မိန်းမတို့
သည်သားများဆုံး၍ မုဆိုးမဖြစ်ကြပါစေသော၊
လူကြီးတို့သည်အသေသတ်ခြင်းကိုခံရ၍၊ လုလင်
တို့သည်း စစ်တိုက်ပွဲ၌ ထားဖြင့် ဆုံးကြပါ စေ
၂၂ သော။- စစ်တိုက်သောရန်သူများကိုသူတို့ရှိရာ
သို့ရုတ်ချည်းရောက်စေတော်မူသောအခါ၊ သူတို့
အိမ်သားများ အော်ဟစ် ကြ ပါစေ သော၊ အ
ကြောင်းမူကား၊ အကျွန်ုပ် ကို ထောင် ခြင်း ငှါ
တွင်းကိုတူးကြပါပြီ၊ အကျွန်ုပ်သွားရာ ထမ်း၌
၂၃ ကျော့ကွင်းကို ဝှက်ထားကြပါပြီ။- အို ထာဝရ
ဘုရား၊ အကျွန်ုပ်အသက်ကိုသတ်ခြင်းငှါ၊ သူတို့
ကြံစည်သမျှကို ကိုယ်တော်သိတော်မူ၏၊ သူတို့
ကို အပြစ်မှ လွှတ်တော်မမူပါနှင့်၊ မျက် မှောက်
တော်၌ သူတို့အပြစ်ကို ချေတော် မမူပါနှင့်၊ ရှေ့
တော်၌ ဆုံးရှုံးကြ ပါစေ သော၊ အမျက် တော်
ထွက်သောအခါ၊ သူတို့ကိုစီရင်တော်မူပါ။

၁၉

၁ ထာဝရဘုရား မိန့် တော် မူ သည် ကား၊ သင်
သည်အိုးထိန်းသမားထံသို့ သွား၍ရေအိုးကိုယူ
ပြီး လျှင်၊ အသက် ကြီး သော လူ၊ အသက် ကြီး
၂ သောယဇ်ပုရောဟိတ်အချို့တို့နှင့်တကွ၊- ဟရ
ဆိတ်တံခါးပြင်၊ ဟိန္နုံသား မြို့င်သို့သွား၍၊
ငါမိန့်တော်မူသည် အတိုင်း ကြွေးကြော်ရမည်
၃ စကားဟူမူကား၊- အိုယုဒရှင်ဘုရင်များနှင့်ယေ
ရုရှလင်မြို့သားများတို့၊ ထာဝရဘုရား၏အမိန့်
တော်ကို နားထောင်ကြလော့၊ ဣသရေလအမျိုး၏
ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ထိုတပ်ကြား
သောသူတိုင်းနားခါးသည်တိုင်အောင်၊ ငါသည်
ဤအရပ်၌ ဘေးရောက်စေမည်။- အကြောင်းမူ
၄ ကား၊ သူတို့သည်ငါကိုစွန့်ပြစ်ကြပြီ၊ ကိုယ်ဘိုးဘ
မသိ၊ ဘိုးဘေးများမသိ၊ ယုဒရှင်ဘုရင်များမသိ
သော၊ တကျွန်းတနိုင်ငံဘုရားတို့ရှေ့မှာ၊ ဤအ
ရပ်၌ နံ့သာပေါင်းကို မီးရှို့သဖြင့်၊ ဤအရပ်ကို
တကျွန်း၊ တနိုင်ငံ မြေ ဖြစ်စေ ကြပြီ၊ အပြစ်မရှိ
သောသူတို့၏အသွေးနှင့် ဤအရပ်ကိုပြည့်စေကြ
၅ ပြီ။- ငါမှာစီရင်မမှာထား၊ ငါအလျှင်း အလိုမရှိ
သောဝတ် တည်းဟူသော၊ ဗာလဘုရားရှေ့မှာ
မီးသားတို့ကိုမီးရှို့၍၊ ပူဇော်ရာဝတ်ပြုခြင်းငှါ၊
၆ ဗာလဘုရားဘို့ကုန်းတို့ကိုတည်ထုပ်ကြပြီ။- ထို့
ကြောင့်၊ ထာဝရဘုရားမိန့်တော်မူသည်ကားထို
အရပ်ကို တောဖက်အရပ်ဟူ၍ မခေါ်၊ ဟိန္နုံ
သား၏ မြို့င်ဟူ၍ မခေါ်၊ ကွပ်မျက်ရာမြို့င်ဟူ၍
ခေါ်ရသော အချိန် ကာလ သည် ရောက်လိမ့်
၇ မည်။- ယုဒပြည်သူ၊ ယေရုရှလင်မြို့သားတို့ကြံ
စည်သော အကြံ အစည်ကို ဤအရပ်၌ ငါဖျက်
မည်၊ ရန်သူ၏ ထားဖြင့်၎င်း၊ သတ်ခြင်းငှါ ရှာ
သောသူ၏လက်ဖြင့်၎င်း၊ သူတို့ကို ငါဆုံးစေမည်၊
သူတို့အသေကောင်များကိုထဲ၌ မိုဃ်းကောင်း
ကင်ငှက်နှင့် တော သားရဲ စားစရာဘို့ ငါထား
၈ မည်။- ဤမြို့ကိုလည်းလူဆိတ်ညံရာ၊ ကဲ့ရဲ့သံကို
ကြားရာအရပ်ဖြစ်စေမည်၊ ထမ်း၌ရှောက်သွား
သမျှသောသူတို့သည်ဤမြို့ခံရသောဘေးအလုံး
စုံတို့ကိုမြင်သောအခါ၊ တုံ့ပြော၍ကဲ့ရဲ့သံကိုပြု
၉ ကြလိမ့်မည်။- သတ်ခြင်းငှါရှာကြသော ရန်သူ
များတို့သည် ဝိုင်း၍တပ်တည် သဖြင့်၊ ဤသူတို့
သည်ကျဉ်းကြပ်လျက်နေ၍၊ ကိုယ်သားသမီးအ
သားကိုငါစားစေမည်၊ အချင်းချင်းတယောက်အ
သားကိုတယောက်စားကြလိမ့်မည်ဟု မြွက်ဆို
၁၀ ပြီးမှ၊- သင်နှင့်အတူသွားသောသူတို့ရှေ့တွင်၊
၁၁ ရေအိုးကိုခွဲလော့။- ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရားက၊ နောက်တဖန်မပြုပြင်နိုင်အောင်
ရေအိုးကိုခွဲသကဲ့သို့၊ ဤလူများနှင့်ဤမြို့ကို
ငါခွဲမည်၊ တောဖက်အရပ်၌သင်းဂြိုဟ်ရာမြေမ
၁၂ လောက်အောင်သင်းဂြိုဟ်ကြလိမ့်မည်။- ဤအ
ရပ်၌၎င်း၊ ဤအရပ်သားတို့၌၎င်း၊ ဤသို့ငါပြု၍ ဤ
မြို့ကို တောဖက် အရပ်ကဲ့သို့ ဖြစ်စေမည်။- အ
ကြင်အိမ်မိုးအပေါ်မှာကောင်းကင်တန်ဆာအလုံးအ

ဖူထိုအောဖိုးသော့အပေါင်းကိုမြို့၌၊ အခြားသောဘုရား
အသော ဘုရားများရှေ့၌၊ သွန်းလောင်းရာပူဇော်
သကာပြု၏၊ ထိုအိမ်ရှိသမျှတို့နှင့်တကွ ယေရု
ရှလင်မြို့အိမ်များ၊ယုဒရှင်ဘုရင်၏နန်းတော်များ
ထိုသည် တောဖက်အရပ်ကဲ့သို့ မစင်ကြယ်ဖြစ်
ရကြလိမ့်မည်ဟု မိန့်တော်မူကြောင်းကိုဆင့်ဆို
လော့ဟုမှာထားတော်မူ၏။
၁၄ ထိုအခါတောပြောစေခြင်းငှါ၊ ထာဝရဘုရား
စေလွှတ်တော်မူရာတောဖက်အရပ်က၊ ယေရမိ
သည် ပြန်လာ၍ မိတ်မှန်တော်တန်တိုင်း၌ ရပ်
၁၅ လျက်၊- ဣသရေလ အမျိုး ၏ ဘုရား သခင်၊
ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်
တော်မူသည်ကား၊ ဤမြို့သားတို့သည်စကား
ကိုနားမထောင်ခြင်းငှါ၊ မိမိတို့လည်ပင်းကို မိုင်
မာစေ သောကြောင့်၊ ငါမြွက်း သမျှသော ဘေး
ဒဏ်တို့ကို၊ ဤမြို့ရွာရှိသမျှတို့အပေါ်မှာသက်
ရောက်စေမည် ဟူ သော အမိန့်တော် ကို လူ အ
ပေါင်းတို့အားဆင့်ဆိုလေ၏။

၂၀

၁ ထိုသို့ယေရမိဟောပြောကြောင်းကို၊မိတ်မှန်
တော်မှူးဖြစ်သောယဇ်ပုရောဟိတ်ဣမေရသား
၂ ပါရှုရသည်ကြားသောအခါ၊- ပရောဖက်ယေ
ရမိကို ရိုက်ပုတ်၍၊ မိတ်မှန်တော်နားမှာ ဗယ်ာ
မိန် အထက်တံခါးဝတွင် ထိတ်ခတ်၍ ထား၏။-
၃ နက်ဖန်နေ့၌ပါရှုရသည် ယေရမိကိုထိတ်မှလွှတ်
သော အခါ၊ ယေရမိက၊ ထာဝရဘုရားသည်
သင့်ကိုပါရှုရဟူ၍ မှည့်တော်မမူ၊ မာဂေါမိဿ
၄ ဗိတ် ဟူ၍ မှည့် တော်မူ၏။- ထာဝရဘုရား မိန့်
တော်မူသည်ကား၊ငါသည်သင်နှင့်သင်၏အဆွေ
ခင်ပွန်း တို့ ၌၊ သင့်ကို ကြောက်မက် ဖွယ်သော
အရာဖြစ်စေမည်၊ သူတို့သည်ယည်း၊ သင့်မျက်
မှောက်၌ ရန်သူ ၏ ထားဖြင့် လုံး ကြ လိမ့် မည်၊
ယုဒ ပြည် တ ပြည် လုံး ကို ဗာဗုလုန် ရှင် ဘုရင်
ထက်သို့ ငါ အပ်သဖြင့်၊ သူသည် ပြည်သား တို့
ကိုဗာဗုလုန်မြို့သို့ သိမ်းသွား၍၊ ထားနှင့်သတ်
၅ လိမ့်မည်။- ဤမြို့၏ အစွမ်းသတ္တိ ရှိသမျှကိုငှင်၊
လုပ်ဆောင်၍ ရသမျှသော ဥစ္စာကိုငှင်၊ ဆည်း
ပူးထားသမျှသော ရတနာကို ငှင်၊ ယုဒ ရှင် ဘုရင် ၏
ဘဏ္ဍာတော် အလုံးစုံတို့ကိုငှင်၊ ရန်သူထက်သို့
ငါ အပ်သဖြင့်၊ ရန်သူတို့သည် လုယက်၍ ဗာဗု
၆ လုန်မြို့သို့သိမ်းသွားကြလိမ့်မည်။- သင်ပါရှုရ
နှင့် သင်၏ အိမ် သူ အိမ် သား အပေါင်း တို့ကို
သည်း ထိမ်းသွားကြလိမ့်မည်။ ထိုသည်တို့မှာဗု
လုန် မြို့သို့ ရောက်ရ လိမ့်မည်၊ ထိုမြို့ သော မြေ
သော ဗုဒ္ဓဘာသာကိုနားထောင်သောသင်၏အ
ဆွေခင်ပွန်းအပေါင်းတို့နှင့်တကွ၊ သင်သည် ထို
မြို့၌သေ၍ သင်းဂြိုဟ်ခြင်းကိုခံရလိမ့်မည်ဟုပါ
ရှုရအား ပြောဆို၏။
၇ အိုထာဝရဘုရား၊ ကိုယ်တော်သည်အကျွန်ုပ်
ကို သွေးဆောင်တော်မူသည်အတိုင်း၊ အကျွန်ုပ်
လိုက် ပါပြီ။ ကိုယ် တော်သည် အကျွန်ုပ် ထက်
အားကြီး၍ နိုင်တော်မူပြီ၊ အကျွန်ုပ်သည်ကဲ့ရဲ့
ခြင်းကိုနေ့တိုင်းခံရပါ၏။လူတိုင်းပျက်ပြယ်ခြင်း
၈ ကိုပြုတတ်ကြပါ၏။- အကျွန်ုပ်သည်ဟောပြော
သောအရာ၌ အနိုင် အ ထက် ပြုခြင်း၊ မှည်း ဆဲ
ခြင်း အမှုကြောင့် အော်ဟစ်၍ ကျွေးကြော်ရပါ
၏၊ ထာဝရဘုရား၏ နှုတ်ကပတ် တော်သည် အ
ကျွန်ုပ်၌ကဲ့ရဲ့ခြင်း၊ အစည်ပျက်ပြယ်ခြင်းကို ခံစ
၉ ရာ အကြောင်း ဖြစ်ပါ၏။- ထို ကြောင့်၊ ငါသည်
နှုတ်ကပတ်တော်ကိုမကြားမပြော၊ နာမတော်
ကိုအမှီပြု၍ မဟောဘဲနေမည်ဟု၊ သဘောထား
သော်လည်း၊ ငအမိုးတို့၌ ချုပ်ထား၍၊ လောင်
သောမီးကဲ့သို့ နှုတ်ကပတ်တော်သည် ငနှစ်လုံး
၌ ဖြစ် သော ကြောင့်၊ အလွှန် ညီး ငွေ့ သ ဖြင့်
၁၀ အောင့်၍မနေနိုင်။-လူများကဲ့ရဲ့ပြစ်တင်ခြင်းကို
ကြားရ၏။ ခပ်သိမ်းသော အရပ်တို့၌ ကြောက်
မက်ဖွယ်သောအကြောင်းရှိ၏။သူတပါးတို့က၊
သိတင်းကို ကြားပြောကြလော့၊ ငါတို့သည်တ
ဆင့်ကြားပြောလိမ့်မည်ဟုဆိုကြ၏။ငါ၏အနား
မှာအစည်နေသောငါ၏မိတ်ဆွေအပေါင်းတို့က၊
ငါ တို့သည် သူကို နိုင်၍ အပြုံးထားသော မိတ်
ပြေစေခြင်းငှါ၊ သူကိုသွေးဆောင်ကောင်း သွေး
၁၁ ဆောင် လိမ့်မည်ဟုဆိုကြ၏။- သို့ သော်လည်း၊
ထာဝရဘုရားသည် အားကြီးသော သူရဲ ကဲ့သို့
ငါဘက်၌ ရှိတော်မူ၏။ ထိုကြောင့်၊ ငါကို ညှဉ်း
ဆဲသော သူတို့သည် မနိုင်ဘဲ ထိမိ၍ လဲကြလိမ့်
မည်၊ အကြံ မ မြောက် သော ကြောင့် အလွှန်
ရှက်ကြလိမ့်မည်၊ မပြေမပျောက်နိုင်သော ထာ
၁၂ ဝရရှက်ကြောက်ခြင်း ရှိကြလိမ့်မည်။- ဖြောင့်
မတ်သော သူတို့ကို စုံစမ်း၍၊ နှစ်လုံး ကျောက်
ကပ် သဘောကို သိမြင် တော် မူသော ကောင်း
ကင် ဗိုလ်ခြေအရှင် ထာဝရဘုရား၊ အကျွန်ုပ်၏
အမှုကိုရှေ့တော်၌ ဖွင့်ပြပါသည်ဖြစ်၍၊ သူတို့၌
အပြစ်ဒဏ် စီရင်တော် မူကြောင်းကို အကျွန်ုပ်

၁၃ ခြင်းရပါလိမ့်မည်။-ထာဝရဘုရားအား သီခြင်း
ဆိုကြလော့၊ထာဝရဘုရားကိုချီးမွမ်းကြလော့၊
အကြောင်းမူကား၊ မတရားသဖြင့် ပြုသော သူ
တို့လက်မှ၊ဆင်းရဲသော သူကိုကယ်နှုတ်တော်မူ
သတည်း။
၁၄ ငါဖွားသော နေ့ရက်သည် အမင်္ဂလာ ရှိပါစေ
သော၊ငါ့ကိုအမိဖွားသောနေ့ရက်ထဝကောင်း
၁၅ ကြီးမင်္ဂလာကိုမခံပါစေနှင့်။- ငါ့အဘထံသို့သွား
၍၊ကိုယ်တော်သည်သားယောက်ျားကို ရပါပြီ
ဟု သိတင်းပြောလျက်၊ ငါ့အဘကို အလွန် ဝမ်း
မြောက် စေသော သူ သည် အမင်္ဂလာ ရှိပါစေ
၁၆ သော။- ထာဝရဘုရားသည်နောင်တမရ၊ ဖျက်
ဆီးတော်မူသောမြို့တို့ကဲ့သို့၊ ထိုသူသည် ဖြစ်ပါ
စေသော၊ နံနက် အချိန်၌ ငိုကြွေးကြော် သံကိုငှင်၊
မွန်းတည့်အချိန်၌အော်ဟစ်သံကိုငှင် ကြားပါ
၁၇ စေသော။-အကြောင်းမူကား၊သူသည်ငါ့ကိုဖွား
စကပင်မသတ်ဘဲ၊ ငါ့အမိ၏ဝမ်းသည် ငါ၏သင်း
ချိုင်းဖြစ်၍၊ ငါ့ကိုအစဉ် ကိုယ်ဝန်ဆောင် မည်
၁၈ အကြောင်းမပြုဘဲနေပါသည်တကား။- ငါသည်
ပူပန်ခြင်း၊ဝမ်းနည်းခြင်းကိုခံရမည့်အကြောင်း
နှင့်၊ ရှက်ကြောက်ခြင်းအားဖြင့် ကိုယ်အသက်
ကိုလွန်စေရမည် အကြောင်း၊ အဘယ် ကြောင့်
ငါ့ကိုဖွားမြင်ရပါသနည်း။

၂၁

၁ ဇေဒကိမင်းကြီးသည်မေလခိသားပါရှုရနှင့်၊
၂ ယဇ်ပရောဟိတ် မာသေယသား ဇေဖနိ တို့ကို
ယေရမိထံသို့စေလွှတ်၍၊ ဗာဗုလုန်ရှင်ဘုရင်နေ
ဗုခဒ်နေဇာသည် ငါတို့ကိုစစ်တိုက်သည်ဖြစ်၍၊
သူကို ငါတို့ထံမှ ပြန် သွား စေ ခြင်းငှါ၊ ထာဝရ
ဘုရားသည် အံ့ဩဖွယ်သော အမှုတို့ကို ပြုတော်မူ
သမျှအတိုင်း၊ ငါတို့၌တဖန် ပြုတော် မူမည် အ
ကြောင်း၊ငါတို့အတွက်ထာဝရဘုရားကိုတောင်း
ပန်ပါလော့ဟု မိန့်တော် မူသော အခါ၊ ထာဝရ
ဘုရား၏ နှုတ် က ပတ် တော် သည် ယေ ရ မိ သို့
၃ ရောက်လာ၍၊-ယေရမိက၊သင်တို့သည်ဇေဒကိ
၄ မင်းကြီးအား ပြန်ပြောရမည်မှာ၊- ဣသရေလ
အမျိုး၏ဘုရားသခင် ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ သင်တို့၏မြို့ပြင်မှာတပ်ချ၍နေသော
ဗာဗုလုန်ရှင်ဘုရင်၊ ခါလဲအမျိုးသားတို့ကိုစစ်
တိုက်လျက်၊ သင်တို့စွဲကိုင်သောထက်နက်များ
ကိုငါလှည့်စေမည်။ထိုသူတို့ကိုမြို့ထဲ၌ငါစည်းဝေး
၅ စေမည်။- ငါကိုယ် တိုင် ထည်း အလွန် ပြင်း စွာ

ထွက်သောအမျက်အမျက်အမျက်နှင့်၊ ...

၆ ...

၇ ...

၁၄ သင်တို့ အကျင့်နှင့် ထိုက်လျောက်အောင် အပြစ်
ဒဏ်ကိုငါပေးမည်။ သင်တို့တောကိုငါမီးသော
ရှို့သည်၊ ပတ်ထည်၌ ရှိသမျှ သော အရာ တို့ကို
လောင်လိမ့်မည်ဟုမိန့်တော်မူ၏။

## ၂၂

၁ ထာဝရဘုရား မိန့် တော် မူသည် ကား၊ သင်
သည် ယုဒရှင်ဘုရင်၏ နန်းတော်သို့သွား၍ ဆင်
၂ ဆိုရမည်မှာ၊– ဒါဝိဒ်မင်းကြီး၏ရာဇပလ္လင်ပေါ်
မှာ ထိုင်သောယုဒရှင်ဘုရင်၊ သင့်ကိုယ်တိုင်မှစ
၍ သင် ၏ ကျွန် များ နှင့်၊ ဤမြို့ တံခါး တို့ဖြင့် ဝင်
သောသင်၏လူများတို့၊ ထာဝရဘုရား၏ နှုတ်က
၃ ပတ် တော်ကို နား ထောင် ကြလော့။– ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ တရားသဖြင့်စီရင်
၍ဖြောင့်မတ်စွာ ဆုံးဖြတ် ကြလော့။ လုယူခြင်း
ခံရသောသူကိုညှဉ်းဆဲသောသူ၏လက်မှကယ်
နှုတ်ကြလော့။ ဧည့်သည်ဖြစ်သောသူ၊ မိဘမရှိ
သော သူ၊ မုဆိုးမတို့ကို မတရား သဖြင့်မပြု၊ မ
ညှဉ်းဆဲကြနှင့်။ အပြစ်မရှိသောသူတို့ကိုဤအ
၄ ရပ်၌ မကွပ် မျက် ကြနှင့်။– အကြောင်း မူကား၊
သင်တို့သည် ဤ ပညတ်တော် အတိုင်း အမှန် ပြု
လျှင်၊ ဒါဝိဒ်မင်းကြီး၏ ရာဇပလ္လင်ပေါ်မှာ ထိုင်
သောရထားစီး၊ မြင်းစီးရှင်ဘုရင်တို့သည်ကျွန်
များ၊ နိုင်ငံတော်သားများနှင့်တကွ၊ ဤနန်းတော်
၅ တံခါး များ ကို ထွက်ဝင် ရ ကြ လိမ့်မည်။– သို့
မဟုတ်၊ သင် တို့ သည် ဤအမိန့်တော်ကို နား မ
ထောင်ဘဲနေလျှင်၊ ဤနန်းတော်သည်လူဆိတ်ညံ
သောအရပ် ဖြစ်လိမ့်မည်ဟု၊ ငါ ထာဝရဘုရား
သည်ကိုယ်ကိုကိုယ်တိုင်တည်၍မိန့်တော်မူ၏။–
၆ ယုဒ ရှင်ဘုရင်၏ နန်းတော်ကို ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင် သည် ငါ၌ ဂိလဒ် အရပ်
ကဲ့သို့၎င်၊ လေဗနုန် တောင် ထိပ် ကဲ့သို့ ၎င် ဖြစ်
သော်လည်း၊ အကယ်စင် စစ်ငါသည်သင့်ကိုလူမ
၇ နေသောမြို့ကဲ့သို့တောဖြစ်စေမည်။–သင့်ကိုဖျက်
ဆီး စေခြင်းငှါ၊ ထား နှင့်ဝုဆိန်ပါသော သူတို့ကို
ငါရွှင်ဆင်သဖြင့်၊ သူတို့သည်သင်၌ အမြတ်ဆုံး
သောအာရဇ်ပင်တို့ကို ခုတ်ဖြည်၍မီးထဲသို့ ချ
၈ ထိုက်ကြလိမ့်မည်။– လူအမျိုးမျိုးတို့သည်ဤမြို့
အနား မှာ ရှောက် သွား လျှက်၊ ထာဝရဘုရား
သည်ဤမြို့ကြီးကိုအဘယ်ကြောင့်ဤသို့ပြုတော်
မူသနည်းဟု၊ တယောက်ကိုတယောက် မေးကြ
၉ သည်ရှိသော်၊– ဤမြို့သားတို့သည်မိမိတို့ဘုရား
သခင် ထာဝရဘုရား ၏ ပဋိညာဉ်ကို စွန့်ပြစ်၍၊
အခြားတပါးသောဘုရားတို့ကိုဝတ်ပြုကိုးကွယ်
ကြသောကြောင့်၊ ဤသို့ ပြုတော်မူသည်ဟု ပြန်
ပြောကြလိမ့်မည်။
၁၀ သေသောသူအတွက် ငိုကြွေး မြည်တမ်းခြင်း
ကို မပြုကြနှင့်။ အခြားတပါးသို့ သွားသော သူ
အတွက် ငိုကြွေး ခြင်းကို ပြုကြလော့။ သူသည်
နောက် တဖန် ပြန် ၍ မလာရ၊ မိမိ မွေးဖွားရာ
၁၁ ဇာတိကိုမမြင်ရ။– ခမည်းတော် ယောရှိမင်းကြီး
အရာ၌ မင်းစံ၍၊ ဤပြည်မှ ထွက်သွားသော ယုဒ
ရှင်ဘုရင်ယောရှိမင်းကြီး၏ သားရှလ္လုံကိုရည်
မှတ်၍၊ ထာဝရဘုရား မိန့် တော် မူ သည်ကား၊
ထို မင်းသည် နောက် တဖန် ဤ ပြည် သို့ ပြန် ၍
၁၂ မလာရ။– ရန်သူ တို့ သိမ်း သွားရာ ပြည်၌ ပင်
သေ ရ လိမ့် မည်။ ဤ ပြည် ကို နောက် တဖန် မ
မြင်ရ။
၁၃ မတရားသော အမှုအားဖြင့် မိမိ အိမ်ကိုငှင်၊
အဓမ္မပြု၍ အထက်ခန်းတို့ကိုငှင်ဆောက်သော
သူ၊ အိမ်နီးချင်းကို အခမပေးဘဲ စေစား၍၊ အ
လုပ်လုပ်သည်အတွက် ဆုမချသောသူသည် အ
၁၄ မင်္ဂလာ ရှိ၏။– ကြီး သော အိမ်၊ ကျယ်သော အ
ထက်ခန်းတို့ကို ငါဆောက်မည်ဟု ဆိုလျှက်၊ ပြ
တင်းပေါက်ကိုဖောက်၍၊ အာရဇ်သစ်သားနှင့်
မိုး ပြီး မှ၊ ထင်း သပတား နှင့် ချယ် လှယ် ပြီတ
၁၅ ကား။– ထာဝရဘုရား မိန့် တော် မူ သည်ကား၊
သင်သည် အာရဇ် သစ်သား၏ ဂုဏ်ကို ကိုးစား
သောကြောင့်မိုးစံရမည်လော။ သင်၏အဘသည်
စ စွာစားသောက်ရသည်မဟုတ်လော။ တရားသ
ဖြင့်စီရင်ဆုံးဖြတ်သည်မဟုတ်လော။ ထိုသို့ပြု၍
၁၆ ကောင်းစားခြင်းရှိ၏။– သူသည်ဆင်းရဲငတ်မွတ်
သောသူတို့ အမှုကို စောင့်၍ တရားသဖြင့် စီရင်
၏။ ထိုသို့ ပြု၍ ကောင်း စား ခြင်း ရှိ၏။ ငါကို သိ
၁၇ သော အကျိုး မဟုတ်လော။– သင်၏ မျက် စိနှင့်
သင်၏နှလုံးမူကား၊ လောဘလွန်ကျူးခြင်း၊ အ
ပြစ်မရှိသောသူကိုသတ်ခြင်း၊ ညှဉ်းဆဲနှိပ်စက်
ခြင်းမှတပါး၊ အဘယ် အမှုကိုမျှ မမှတ်တတ်။–
၁၈ ထိုကြောင့်၊ ထာဝရဘုရားသည် ယုဒရှင်ဘုရင်
ယောရှိ မင်း ကြီး၏ သား ယော ယကိမ်ကို ရည်
မှတ်၍မိန့်တော်မူသည်ကား၊ ထိုမင်းသေသော
အခါ လူများတို့က၊ ဩော်ငအစ်ကို၊ ဩော်ငနှမ
မဟူ၍မငိုကြွေးရကြ။ သူ၏အတွက်လည်း ဩော်
သခင်၊ ဩော်အရှင်မင်း၏ဘုန်းဟူ၍မမြည်တမ်းရ
၁၉ ကြ။– ယေရုရှလင်မြို့ပြင်သို့ဆွဲသွား၍ ပြစ်ထား

သချင်း၊ မြို့ကိုသင်း၍ပြုတ်သကဲ့သို့ထိုမင်းကိုသင်း၍
ပြုတ်ရလိမ့်မည်။
၂၀ လေဗနုန်တောင်ပေါ်သို့တက်၍ကျွေးကြော်
လော့။ဗာရှန်ပြည်၌အော်ဟစ်လော့။ အာဗရိမ်
အရပ်မှာအသံကိုလွှင့်လော့။ အကြောင်းမူ
ကား၊ သင်၏မိတ်ဆွေအပေါင်းတို့သည် ပျက်စီး
၂၁ ခြင်းသို့ရောက်ကြပြီ။- သင်သည်ကောင်းစား
သောအခါငါသတိပေး၏။ သင်က၊ ငါနားမ
ထောင်ဟုပြန်ပြော၏။ ငယ်သောအရွယ်မှစ၍
၂၂ စကားကိုနားမထောင်ဘဲနေမြဲရှိ၏။- သင့်ကို
ကျွေးမွေးသောသူအပေါင်းတို့ကို လေထည်စား
လိမ့်မည်။ သင်၏မိတ်ဆွေတို့ကို ရန်သူတို့သည်
ဆိမ်း၍သွား၍ကြလိမ့်မည်။ ထိုအခါ သင်သည်
ကိုယ်ပြုသမျှသောဒုစရိုက်တို့ကြောင့်၊ အမှန်
၂၃ ရှုတ်ကြောက်၍မိတ်ပျက်ခြင်းရှိလိမ့်မည်။-အာ
ရဇ်ပင်တို့၌အသိုက်လုပ်တတ်သော လေဗနုန်
တောင်သား၊သားဖွားခြင်းဝေဒနာကိုမိမ္မခံရသ
ကဲ့သို့၊သင်သည်နာကြင်ခြင်းဝေဒနာကိုခံရသော
အခါ၊ အဘယ်မျှလောက် သနားဖွယ် ဖြစ်လိမ့်
မည်တကား။
၂၄ ထာဝရဘုရားမိန့်တော်မူသည်ကား၊ယုဒရှင်
ဘုရင်ယောယကိမ်မင်း၊ကြီး၏သားယေခါနိသည်၊
ငါ့လက်ျာလက်၌ ပါသော တံဆိပ် လက်စွပ် မှန်
တော်သည်။ ငါအသက်ရှင်သည်အတိုင်း၊ သင့်
၂၅ ထိုငါပယ်ပြစ်မည်။- သင့်အသက်ကို သတ်ချင်
သောသူ၊ သင်အထွန် ကြောက်သောသူ တည်း
ဟူသော ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာမင်း
၂၆ မှစ၍ခါလဒဲလူတို့လက်သို့ငါအပ်မည်။-သင့်ကို
၎င်း၊သင့်ကိုဖွားမြင်သောသင်၏အမိကို၎င်း၊ မွေး
ဖွားရာဌာနမဟုတ်သောပြည်သို့ငါနှင်ထုတ်သ
ဖြင့်၊ ထိုပြည်၌ သင်တို့သည်သေကြလိမ့်မည်။-
၂၇ ပြန်လိုသောပြည်သို့နောက်တဖန်ပြန်၍ မလာရ
၂၈ ကြ။-ဤမင်း၊သား၊ယေခါနိသည်ရှိုသော ဖွယ်မဟုတ်၊
ထိုး၍ခွဲသော ရုပ်တု ဖြစ်သလော။ အဘယ်သူမျှ
မနှစ်သက်သော တန်ဆာဖြစ်သလော။ သူနှင့်တ
ကွ သူ၏ သားမြေးတို့ကို နှင်ထုတ်၍၊ သူတို့မသိ
ကျွမ်းသော ပြည်၌ အဘယ် ကြောင့် ကျပြစ်ရ သ
၂၉ နည်း။- အိုမြေကြီး၊ မြေကြီး၊ မြေကြီး၊ ထာဝရ
၃၀ ဘုရား၏အမိန့်တော်ကိုနားထောင်လော့။- ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ဤမင်း၊ကိုသား
မရှိသောသူ ဟူ၍ ၎င်း၊ တသက် လုံး မ ကောင်း
စားသောသူဟူ၍၎င်း ရေး၍မှတ်လော့။ သူ၏သား
မြေး တစုံ တယောက် မျှ ဒါဝိဒ် ပလ္လင်ကြီး၌ ထိုင်၍
ပလ္လင်ပေါ်မှာ ထိုင်ရသောအခွင့်နှင့်၊ ယုဒပြည်
ကိုအုပ်စိုးရသောအခွင့်မရှိရ။

၂၃

၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ငါ့စားကျက်
ကျက်စားသောသိုး၊ထိုးကိုဖျက်ဆီး၍၊အရပ်ရပ်
သို့ကွဲပြားစေသောသိုးထိန်းတို့သည် အမင်္ဂလာ
၂ ရှိကြ၏။- ထိုကြောင့်၊ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ငါ၏
လူတို့ကို ကျွေးမွေးရသော သိုးထိန်းတို့ အမှာ
သင်တို့သည် ငါ၏သိုးစုကိုမကြည့်ရှု၊ မရှု၊ အ
ရပ်ရပ်သို့ ကွဲပြားစေ၍ နှင်ထုတ် သောကြောင့်၊
သင်တို့ပြုသောဒုစရိုက်အပြစ်ကို သင်တို့အပေါ်
မှာငါသက်ရောက်စေမည်ဟု၊ထာဝရဘုရားမိန့်
၃ တော်မူ၏။- တဖန်မိန့်တော် မူသည်ကား၊ ငါ၏
သိုးစုကိုငါနှင်ထုတ်သောပြည်ရှိသမျှထဲက၌ကျန်
ကြွင်းသောသိုးတို့ကိုငါစုဝေး၍၊နေရင်းသိုးခြံသို့
တဖန်ငါဆောင်ခဲ့ဦးမည်။ သူတို့သည်သားဖွား၍
၄ ပွား၍များပြားကြလိမ့်မည်။-သူတို့ကိုကျွေးမွေး
သောသိုးထိန်းတို့ကိုသူတို့အပေါ်မှာငါခန့်ထား
သဖြင့်၊ သူတို့သည်နောက်တဖန်ကြောက်ခြင်းစ
ထိတ်လန့်ခြင်းမရှိရကြ။ ပျောက်ခြင်းကိုလည်း မခံ
ရကြဟု၊ ထာဝရဘုရားမိန့်တော်မူ၏။
၅ ထာဝရဘုရား မိန့် တော် မူ သည် ကား၊ ထမ်း
ရှင်းသောအညွန့်ကိုဒါဝိဒ်အမျိုး၌ငါပေါ်ထွန်းစေသည့်
အချိန်၊ ညာတ်ကောင်းသော ရှင်ဘုရင် ထမ်း
ထည့်မိုး၍၊မြေကြီးပေါ်မှာတရားသဖြင့်စီရင်
မတ်စွာစီရင်ရာကာလသည် ရောက်လိမ့်မည်။-
၆ ထိုမင်း လက်ထက်၌ ယုဒပြည်သည် ကယ်တင်
ခြင်းသို့ ရောက်၍၊ ဣသရေလပြည်သည်လည်း ငြိမ်
ဝပ်စွာနေရလိမ့်မည်။ ထိုမင်းသည်ယေဟောဝါ
၇ ဇေဒကနုဟူသော ဘွဲ့နာမရှိလိမ့်သတည်း။-ထို
ကြောင့်၊ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဣ
သရေလအမျိုးသားတို့ကို အဲဂုတ္တုပြည်မှ နှုတ်
ဆောင်သော ထာဝရဘုရား အသက် ရှင်တော်မူ
၈ သည် ဟူ၍ မကျိန်ဆိုဘဲ၊- ဣသရေလ အမျိုး
သား အစည်းအဆက်တို့ကို မြောက်ပြည်မှ၎င်း၊
နှင်ထုတ် သူ၊သော ပြည်ရှိသမျှထဲမှ၎င်း နှုတ်ဆောင်
သော ထာဝရဘုရား အသက်ရှင်တော် မူသည်
ဟု၍ကျိန်ဆိုရသောကာလသည် နောက်တဖန်
ရောက်လိမ့်မည်။ သူတို့သည် မိမိနေရင်းပြည်၌ အ
စဉ်နေရကြလိမ့်မည်။

၉ ပရောဖက် များ နှင့် ဆိုင် သော စကား ဟူမူ
ကား၊ ထာဝရဘုရား ကြောင့်၎င်း၊ သန့်ရှင်း သော
စကားတော်ကြောင့်၎င်း မိတ်ပျက်လျက်ရှိ၏။ ငါ
အရိုး ရှိ သမျှ တို့သည် တုပ်ရှား ကြ၏၊ ထမ်းမူး
သောသူနှင့် စပျစ်ရည် နိုင်သောသူကဲ့သို့ ငါဖြစ်
၁၀ ၏။- အကြောင်းမူကား၊ မတရားသောမေထုန်၌ မှီ
ဝဲသောသူတို့သည် တပြည်လုံး၌ အနှံ့အပြား ရှိ
ကြ၏။ ထိုသူတို့ကြောင့်တပြည်လုံး မြည်တမ်းရ
၏။ တော၌ ကျက်စား ရာ အရပ် တို့ သည် သွေ့
ခြောက်ကြ၏။ ပြည်သားများ လိုက်သော လမ်း
သည်မကောင်း၊ သူတို့အစွမ်းသတ္တိသည် တရား
၁၁ ထက်၌ မနေတတ်။- ပရောဖက်နှင့် ယဇ်ပုရော
ဟိတ် နှစ်ပါးတို့သည် ဘုရားကို မရိုမသေပြုကြ
ပြီ။ အိမ်တော်၌ပင် သူတို့ပြုသော အဓမ္မအမှုကို ငါ
၁၂ တွေ့ပြီဟု၊ ထာဝရ ဘုရား မိန့် တော် မူ ၏။- ထို
ကြောင့်၊ သူတို့သွားသောလမ်းသည်မှောင်မိုက်
၌ချောတတ်သောလမ်းကဲ့သို့ဖြစ်၍၊ သူတို့သည်
တွန်းထိုးခြင်းကို ခံရ၍ လဲ ကြ လိမ့်မည်။ အ
ကြောင်းမူကား၊ သူတို့ သည် ဆုဆုံး ခြင်း ကို ခံရ
သောကာလ၌ သူတို့ အပေါ်မှာ ဘေး ဥပါဒ်ကို
သင့်ရောက်စေမည်ဟု၊ ထာဝရဘုရား မိန့်တော်
၁၃ မူ၏။- ရှမာရိပြည်သား ပရောဖက် တို့၌လည်း၊
မိုက်သောသဘောကိုငါမြင်ပြီ။ သူတို့သည် ဗာ
လဘုရားကိုမှီဝဲ၍ ပရောဖက်ပြုသဖြင့်၊ ငါ၏လူ
ဣသရေလ အမျိုး သား တို့ကို မှားယွင်း စေကြ
၁၄ ပြီ။- ယေရုရှလင်မြို့သားပရောဖက်တို့၌လည်း၊
ကိလေသာ ရှိ၍ ဖွယ်သောသဘောကို ငါမြင်ပြီ။
သူတို့သည် မတရားသော မေထုန်၌မှီဝဲလျက်၊ မု
သာ ကိုလည်း သုံးလျက်၊ အဓမ္မ ပြု သော သူ တို့
ကို အားပေး တတ် သဖြင့်၊ အ ဘယ်သူမျှ မိမိပြု
သောအဓမ္မအမှုကိုမစွန့်။ ထိုသူရှိသမျှတို့သည်
ငါ၌ သောဒုံ မြို့သား ကဲ့သို့ ၎င်း၊ ယေရု ရှလင်မြို့
သားတို့သည်ဂေါမောရမြို့သားကဲ့သို့၎င်းဖြစ်ကြ
၁၅ ၏။- ထိုကြောင့်၊ကောင်းကင်ဗိုလ်ခြေ အရှင်ထာ
ဝရဘုရားသည် ပရောဖက်တို့ အမှု၌ မိန့်တော်မူ
သည်ကား၊ သူတို့ကိုဒေါနနှင့်ငါကျွေးမည်။ ဆေး
ခါးကိုလည်း သောက်စေမည်။ ယေရုရှလင် မြို့
သားပရောဖက် တို့သည် မူလအမြစ်ဖြစ်၍၊ အ
ဓမ္မအမှုသည်တပြည်လုံးကိုနှံ့ပြားလေပြီ။
၁၆ ကောင်းကင် ဗိုလ် ခြေ အရှင် ထာဝရ ဘုရား
မိန့်တော်မူသည်ကား၊ ပရောဖက်ပြု၍ သင်တို့
အားဟောတတ်သောသူတို့၏စကားကိုနားမ
ထောင်ကြနှင့်။ သူတို့သည်သင်တို့အားအချည်း
နှီး ဟောတတ် ကြ ၏။ ထာဝရဘုရား၏ နှုတ်
တော်ထွက်သို့မလိုက်၊ ကိုယ်အလိုအလျောက်
ရူပါရုံကိုမြင်သည်အတိုင်း ဟောပြောတတ်ကြ
၁၇ ၏။- ထာဝရဘုရား၏နှုတ်ကပတ်တော်ကိုမထီမဲ့
မြင်ပြုသောသူတို့အား၊ သင်တို့သည်ငြိမ်ဝပ်ခြင်း
ရှိကြလိမ့်မည်ဟု ဟောတတ် ကြ၏။ မိမိတို့ မိတ်
နှလုံးမိုက်မာခြင်းအားသဖြင့်လိုက်သောသူတို့
အား၊ သင်တို့သည် ဘေးဥပါဒ်နှင့် မတွေ့ရကြ
၁၈ ဟု ဟောတတ် ကြ၏။- ထိုသူ တို့ တွင် အဘယ်
သူသည် ထာဝရ ဘုရား နှင့် တိုင်ပင်ဘက် ပြုသ
နည်း။ အဘယ်သူသည်အမှုတော်ကိုကြား၊မြင်သ
နည်း။ အဘယ်သူသည်နှုတ်ကပတ်တော်ကိုနားစ
၁၉ ထောင်၍ကြားသနည်း။- ထာဝရဘုရား၏ဒေ
ါသတော်သည်ပူသောအမှိန်နှင့်ထွက်၏။ မြင်း
မူသော လေတွေ ဖြစ်၍၊ မတရား သော သူတို့
၂၀ ခေါင်းပေါ်မှာပြင်းစွာတိုက်လိမ့်မည်။- ထာဝရ
ဘုရားသည်ထတ်စထတ်၍၊ အကြံအစည်တော်
ကိုပြည့်စုံစေတော်မမူမှီ အမျက်တော်မငြိမ်းရ။
နောက်ကာလ၌ သင်တို့သည် ရှင်းထင်းစွာ နားစ
၂၁ ထည် ကြလိမ့်မည်။- ငါမစေလွှတ်ဘဲ ထိုပရော
ဖက်တို့သည် ပြေး ကြပြီ။ ငါမမှာထားဘဲ သူတို့
သည်ကိုယ်အလိုအလျောက်ဟောပြောကြပြီ။-
၂၂ ထိုသူတို့သည် ငါနှင့် တိုင်ပင် ဘက် ပြု လျှင်၊ ငါ
စကားကိုငါ၏လူမျိုးအားဆင့်ဆို၍၊ငါ၏လူမျိုး
ကို မတရားသောလမ်းမှ၎င်း၊ မကောင်းသောအ
ကျင့်စရိုက်မှ၎င်း လွှဲသွားစေကြပြီ။
၂၃ ငါသည် နီးသော အရပ်၌ သာ ဘုရား ဖြစ် သ
လော။ ဝေးသောအရပ်၌လည်းဘုရားဖြစ်သည်
မဟုတ်လောဟု၊ ထာဝရဘုရားမေးတော်မူ၏။-
၂၄ ငါမမြင်စေခြင်းငှါ အဘယ်သူသည် မထင်ရှား
သောအရပ်၌ပုန်းရှောင်၍နေနိုင်သနည်းဟု၊ထာ
ဝရဘုရား မေးတော်မူ၏။ ငါသည် ကောင်းကင်
မြေကြီးကို နှံ့ပြားသည်မဟုတ်လောဟု၊ထာဝရ
၂၅ ဘုရားမေးတော်မူ၏။- ငါသည်အိပ်မက်မြင်ပြီ၊
အိပ်မက်မြင်ပြီဟု၊ငါ့နာမကိုအမှီပြု၍၊မုသာဖြင့်
ဟောပြောသော ပရောဖက်တို့၏ စကားကို ငါ
၂၆ ကြားပြီ။- ထိုပရောဖက်တို့သည်အဘယ်မျှကာ
လပတ်လုံး ဤသို့ကြံစည်ကြလိမ့်မည်နည်း။ သူ
တို့သည်မုသာစကားကို ဟောပြောတတ်ကြ၏။
ကိုယ်မိတ်နှလုံးလှည့်စားသည်အတိုင်း ဟော
၂၇ ပြော တတ်ကြ ၏။- ထိုဟောဆိုတို့ သည် ဗာလ

ကြောင့်ငါ့နာမကိုမေ့လျော့သကဲ့သို့၊ သူတို့သည်
အိပ်မက်နိုးချိန်း တစုံယောက်ကို တယောက် ပြော
တတ်သောအိပ်မက်များအားဖြင့်၊ ငါ၏လူမျိုး
သည် ငါ့နာမကို မေ့လျော့စေမည်ဟု အကြံရှိကြ
၂၈ သည်တကား။- အိပ်မက်မြင်သော ပရောဖက်
သည် အိပ်မက်စကားကိုပြောပါလေစေ။ ငါ၏
နှုတ်ကပတ်တော်ကို ခံရသောသူသည် နှုတ်က
ပတ်စကားတော်ကို မှန်ကန်စွာ ဟော ပြောပါ
လေစေ။ အဖျင်းသည်စပါးနှင့်အဘယ်သို့ဆိုင်
၂၉ သနည်းဟု၊ထာဝရဘုရားမိန့်တော်မူ၏။- ငါ၏
နှုတ်ကပတ်တော်သည်မီးကဲ့သို့၎င်း၊ကျောက်ကို
ထုခြေသော သံတူ ကဲ့သို့၎င်း ဖြစ်သည် မဟုတ်
၃၀ လောဟု၊ထာဝရဘုရားမေးတော်မူ၏။- ထိုဖြစ်
၍၊ငါ့စကားတော်ကိုအိမ်နီးချင်းတယောက်မှတ
ယောက်ခိုးသော ပရောဖက်တို့ကို ငါသည်ဆန့်
ကျင်ဘက်ပြုမည်ဟု၊ ထာဝရဘုရားမိန့်တော်မူ
၃၁ ၏။- မိမိတို့အလိုအလျောက် ဟောပြော လျက်
နှင့် အမိန့်တော် ရှိသည် ဟု ဆိုသော ပရောဖက်
တို့ကိုငါသည်ဆန့်ကျင်ဘက်ပြုမည်ဟု၊ထာဝရ
၃၂ ဘုရားမိန့်တော်မူ၏။- မှားသော အိပ်မက်ကို
ဟောပြော၍၊ မုသာစကားနှင့်အချည်းနှီးစကား
အားဖြင့် ငါ၏လူမျိုးကိုမှားယွင်းစေသောပရော
ဖက်တို့ကိုငါသည်ဆန့်ကျင်ဘက်ပြုမည်။ သူတို့
ကိုငါမစေလွှတ်၊ မမှာထားသောကြောင့်၊ ဤလူ
မျိုးသည် ကျေးဇူးမရှိဟု၊ ထာဝရဘုရား မိန့်
တော်မူ၏။
၃၃ ဤလူမျိုးတွင်ဆင်းရဲသားဖြစ်စေ၊ ပရောဖက်
ဖြစ်စေ၊ယဇ်ပုရောဟိတ်ဖြစ်စေ၊တစုံတယောက်
က၊ ထာဝရဘုရား၏ ဗျာဒိတ်တော် အဘယ်သို့
နည်းဟု သင့်ကို မေးလျှင်၊ ပြန်ပြောရမည်မှာ၊
သင်တို့နှင့် ဆိုင်သော ဗျာဒိတ်တော် ဟူမူကား၊
သင်တို့ကို ငါစွန့်ပစ်မည်ဟု၊ ထာဝရဘုရားမိန့်
၃၄ တော်မူ၏။-ထာဝရဘုရား၏ဗျာဒိတ်တော်ရှိသည်
ဟုပြောဆိုသောပရောဖက်၊ ယဇ်ပုရောဟိတ်၊
ပြည်သူ ပြည်သားကို၎င်း၊ ထိုသူ၏ အိမ်သူအိမ်
၃၅ သားတို့ကို၎င်း၊ ငါသည် ဒဏ်ပေးမည်။- သင်
တို့က၊ ထာဝရဘုရားသည်အဘယ်သို့ပြန်ပြော
တော်မူသနည်းဟူ၍၎င်း၊အဘယ်သို့မိန့်တော်မူ
သနည်းဟူ၍၎င်း၊ အိမ်နီးချင်း၊ ညီအစ်ကိုချင်း
၃၆ တယောက်ကိုတယောက်မေးမြန်းရမည်။-ထာ
ဝရဘုရား၏ ဗျာဒိတ်တော်ရှိသည်ဟူ၍ နောက်
တဖန်မဆိုရ။လူတိုင်းမိမိစကားမှတပါးအခြား
သောဗျာဒိတ်တော် မရှိရ။ အကြောင်းမူကား၊
သင်တို့သည် အသက်ရှင် တော် မူသော ဘုရား၊
ငါတို့၏ဘုရားသခင်တည်းဟူသောကောင်းကင်
ဗိုလ်ခြေအရှင် ထာဝရဘုရား၏ စကားတော်ကို
၃၇ ဖျက်ကြပြီ။- ထာဝရဘုရားသည် သင့်အားအ
ဘယ်သို့ပြန်ပြောတော်မူသနည်း။ထာဝရဘုရား
သည်အဘယ်သို့မိန့်တော်မူသနည်းဟု၊ ပရော
၃၈ ဖက်ကို မေးလော့။- သင်တို့က၊ ထာဝရဘုရား
၏ ဗျာဒိတ်တော်ဟု ဆိုကြသည်ဖြစ်၍၊ ထာဝရ
ဘုရား မိန့်တော် မူသည်ကား၊ ထာဝရဘုရား၏
ဗျာဒိတ်တော်ရှိသည်ဟု မဆိုရမည်အကြောင်း၊
ငါ ပညတ် သော်လည်း၊ သင်တို့သည် ထာဝရ
ဘုရား၏ ဗျာဒိတ်တော် ရှိသည်ဟူသော စကား
၃၉ ကိုသုံးကြသောကြောင့်၊-ငါသည်သင်တို့ကို၎င်း၊
သင်တို့ နှင့်-ဘိုးဘေးတို့အား ငါ ပေးသော မြို့ကို
၎င်း၊ ငေ့ထံမှအကုန်အစင်ကျုံး၍ပြစ်လိုက်မည်။-
၄၀ အစဉ်အမြဲမမေ့လျော့နိုင်သောထာဝရကဲ့ရဲ့ခြင်း
နှင့် အရှက်ကွဲခြင်းကို သင်တို့အပေါ်မှာ သက်
ရောက်စေမည်။

၂၄

၁ ထာဝရဘုရား ပြတော် မူသော ရူပါရုံ တူမူ
ကား၊ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည်
ယုဒရှင်ဘုရင်ယောယကိမ်သားယေခေါနိမင်း၊
အစရှိသော ယုဒမှူးမတ်များ၊ လက်သမား၊ ပန်း
ပဲသမားများတို့ကိုယေရုရှလင်မြို့မှဗာဗုလုန်မြို့
သို့ သိမ်းသွား သော နောက်၊ ထာဝရ ဘုရား၏
ဗိမာန်မှန်တော် ရှေ့၌ ထားသော သင်္ဘော သဖန်း
သီး တောင်း နှစ် လုံး သည် ထင် ရှား လေ ၏။-
၂ တောင်းတလုံး၌ကား၊ အဦးမှည့်သောသင်္ဘော
သဖန်းသီးကဲ့သို့ အလွန်ကောင်းသောသင်္ဘော
သဖန်းသီးနှင့်ပြည့်လျက်ရှိ၏။ တလုံး၌ကား၊မ
စားနိုင်အောင် အလွန် ညှို့သော သင်္ဘောသဖန်း
၃ သီးနှင့်ပြည့်လျက်ရှိ၏။-ထာဝရဘုရားကလည်း၊
ယေရမိ၊သင်သည်အဘယ်အရာကိုမြင်သနည်း
ဟုမေးတော်မူလျှင်၊ အကျွန်ုပ်သည် သင်္ဘောသ
ဖန်းသီးကို မြင်ပါ၏။ ကောင်းသော သင်္ဘောသ
ဖန်းသီး သည် အလွန် ကောင်း ပါ၏။ ညှို့သော
သင်္ဘောသဖန်းသီးသည်မစားနိုင်အောင်အလွန်
ညှို့ပါသည်ဟုပြန်လျှောက်၏။
၄ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
ငါ့ဆီသို့ရောက်လာ၍၊ဣသရေလအမျိုး၏ဘုရား
၅ သခင်ထာဝရဘုရားမိန့်တော်မူသည်ကား။- ဤ

အရပ်မှခါလဒဲပြည်သို့ငါစေလွှတ်၍သိမ်းသွား
ခြင်းကို ခံရသော ယုဒအမျိုးသား တို့သည်၊ ဤ
ကောင်းသော သင်္ဘောသဖန်းသီးကဲ့သို့ ဖြစ်ကြ
၆ သည်ဟုငါဝန်ခံမည်။-သူတို့၌ကျေးဇူးပြုမည်ဟု
ငါကြံစည်၍၊ဤပြည်သို့တဖန်ဆောင်ခဲ့ဦးမည်၊
နောက်တဖန်မဖြိုမဖျက်ဘဲ တည်ဆောက်မည်၊
၇ မနှုတ်မပယ်ဘဲ စိုက်ထားမည်။- ငါသည် ထာ
ဝရဘုရား ဖြစ်ကြောင်း ကို၊ သူ တို့သိ နိုင်သော
စိတ် နှစ်လုံးကို ငါပေးမည်၊ သူတို့သည် ငါ ၏ လူ
ဖြစ်ကြ၍၊ ငါသည်လည်း၊ သူတို့၏ဘုရားသခင်
ဖြစ်လိမ့်မည်၊ ထိုသို့ စိတ် နှစ်လုံး အကြွင်းမဲ့
၈ နှင့်ဖြိန်ထာကြလိမ့်မည်။- မစားနိုင်အောင် အ
လွန်ညံ့သောသင်္ဘောသဖန်းသီးကဲ့သို့၊ ငါသည်
ယုဒရှင်ဘုရင်ဇေဒကိမှစ၍၊ မှူးတော်၊ ကဲ်တော်၊
ဤပြည်၌ ကျန်ကြွင်းသောယေရုရှလင် မြို့သား၊
အဲဂုတ္တုပြည်၌နေသောအမျိုးသားတို့ကိုဖြစ်စေ
၉ မည်။- သူတို့သည် ငါနှင်ရာအရပ်ရပ်တို့၌ကဲ့ရဲ့
ခြင်း၊ ပုံမိုင်းခြင်း၊ ဆဲရေးခြင်း၊ ကျိန်ခြင်းတို့ကိုခံ
ရမည့်အကြောင်း၊ငါသည်မြေပေါ်မှာတိုင်းနိုင်ငံ
ရှိသမျှတို့၌ နှောင့်ရှက် ညှဉ်းဆဲ ခြင်းသို့ သူတို့
၁၀ ကိုအပ်လိုက်မည်။- သူတို့နှင့်သူတို့၏ဘိုးဘေး
တို့အားငါပေးသောပြည်မှ၊ သူတို့ကိုမပယ်ရှင်း
နိုင်အောင် ထားဘေး နွတ်သိပ်ခြင်း ဘေး၊
ကာလနာဘေးကို သူတို့ရှိရာသို့ ငါစေလွှတ်မည်
ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

## ၂၅

၁ ယုဒရှင်ဘုရင် ယောရှိမင်းကြီးသား ယောယ
ကိမ်နန်းစံစတုတ္ထနှစ်၊ ဗာဗုလုန်ရှင်ဘုရင် နေဗု
ခဒ်နေဇာနန်းစံ ပဌမနှစ်တွင်၊ ယုဒပြည်သားအ
ပေါင်းတို့ကိုရည်မှတ်၍၊ ယေရမိသို့ရောက်လာ
၂ သောနှုတ်ကပတ်တော်ကို၊-ယုဒပြည်သူ၊ယေရု
ရှလင်မြို့သားအပေါင်းတို့အား၊ ယေရမိဆင့်ဆို
၃ ဆောပြောရသည်ကား၊- ယုဒရှင်ဘုရင်အာမုန်
သား ယောရှိနန်းစံ ဆယ်သုံးနှစ်မှစ၍ ယနေ့တိုင်
အောင်၊ အနှစ်နှစ်ဆယ်သုံးနှစ်ပတ်လုံး၊ထာဝရ
ဘုရား၏ နှုတ်ကပတ်တော်သည် ငါ့ဆီသို့ရောက်
လာသည်အတိုင်း၊ ငါသည်စောစောထ၍အမိန့်
တော်ကို အထပ်ထပ် ဆင့်ဆိုသော်လည်း၊ သင်
၄ တို့သည်နားမထောင်ဘဲနေကြ၏၊-ထာဝရဘုရား
သည်လည်း၊ စောစောထ၍မိမိကျွန်ပရောဖက်
အပေါင်းတို့ကို၊ သင်တို့ရှိရာသို့ အထပ်ထပ်စေ
လွှတ်တော်မူသော်လည်း၊ သင်တို့သည် နားမ
ထောင်ကြ၊ အမိန့်တော်ကိုကြားခြင်းငှါ နားကို
၅ မလှည့်ဘဲနေကြ၏၊-ထိုပရောဖက်တို့က၊သင်တို့
အသီးအသီး လိုက်သော လမ်းဆိုးနှင့် အကျင့်
ဆိုးများကိုပယ်ရှား၍၊ သင်တို့နှင့် ဘိုးဘေး တို့
အား ထာဝရဘုရားသည် အမြဲပေးတော်မူသော
၆ ပြည်၌နေကြလော့။- အခြားတပါးသောဘုရား
နောက်သို့လိုက်၍ဝတ်မပြု၊ မကိုးကွယ် ကြနှင့်။
ကိုယ်လက်နှင့် လုပ်သောအရာများ အားဖြင့်၊
ငါ ၏ အမျက် ကို မထွက် စေ ကြနှင့်၊ ငါ အညှိ
ညှဉ်းဆဲ၍ သင်တို့ကိုမညှဉ်းဆဲဟုဆင့်ဆိုကြ၏။-
၇ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုသို့ဆင့်
ဆိုကြသော်လည်း၊ သင်တို့သည်ကိုယ်၌အကျိုး
နည်းဖြစ်စေခြင်းငှါ၊ ကိုယ်လက်နှင့် လုပ် သော
အရာများ အားဖြင့်၊ ငါ၏အမျက်ကို ထွက်စေ
သောအခွင့်ရှိမည်အကြောင်း၊ငါ့စကားကိုနားမ
၈ ထောင် ဘဲ နေကြပြီ။- ထိုကြောင့်၊ ကောင်းကင်
ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်တော် မူသည်
ကား၊သင်တို့သည်ငါ့စကားကိုနားမထောင်သော
၉ ကြောင့်၊- ဤပြည်နှင့်ပြည်သားများကိုငုင်းပတ်
ဝန်းကျင်၌ ရှိသော လူအမျိုးမျိုးတို့ကို ဖျက်ဆီး
ထိုက်စေခြင်းငှါ၊ ငါ၏ကျွန်ဗာဗုလုန် ရှင်ဘုရင်
နေဗုခဒ်နေဇာအစရှိသောမြောက်ပြည်သားအ
မျိုးမျိုး အပေါင်း တို့ကို ငါမှာလိုက်၍ ဆောင်ခဲ့
ပြီးလျှင်၊ ရှင်းရှင်းဖျက်ဆီး၍၊ ဤပြည်သားတို့
ကိုထိတ်လန့်ဖွယ်ရာ၊ကဲ့ရဲ့သံကိုကြားရာ၊အစဉ်
၁၀ အမြဲလူဆိတ်ညံ့ရာ ဖြစ်စေမည်။- ဤသူတို့ ထွင်
ဝမ်းမြောက်သောအသံ၊ ရွှင်လန်းသော အသံ၊
မင်္ဂလာဆောင် သတို့သား၏ အသံ၊ သတို့သမီး၏
အသံ၊ကြိတ်ဆုံသံနှင့်မီးခွက်အလင်းကိုငါကွယ်
၁၁ ပျောက်စေမည်၊-ဤပြည်တရှောက်လုံးသည်လူ
ဆိတ်ညံ့ရာ၊ အံ့သြဖွယ်ရာဖြစ်လိမ့်မည်၊ ဤ
လူမျိုးတို့သည် အနှစ်ခုနှစ်ဆယ် ပတ်လုံး ဗာဗု
လုန်ရှင်ဘုရင်၏ အမှုကို ဆောင်ရွက် ရကြလိမ့်
၁၂ မည်။-ထာဝရဘုရားမိန့်တော်မူသည်ကား၊ အ
နှစ် ခု နှစ် ဆယ် စေ့ သော အခါ၊ ဗာဗုလုန် ရှင်
ဘုရင်နှင့်သူ၏နိုင်ငံတည်းဟူသောခါလဒဲတိုင်း
နိုင်ငံ၏ အပြစ် ကြောင့်၊ ငါသည် သူတို့ကို ဒဏ်
ပေး၍၊ ထိုနိုင်ငံကို အစဉ်အမြဲ လူ ဆိတ်ညံ့ရာ
၁၃ အရပ် ဖြစ်စေမည်။- ငါမြွက်သော စကားများ
တည်း ဟူသော၊ ယေရမိသည် ခပ်သိမ်း သော
တိုင်းနိုင်ငံသို့တဖက်၌ဟောပြော၍၊ ဤစာ၌ရေး
ထားသောစကားရှိသမျှတို့ကို ခါလဒဲတိုင်းနိုင်ငံ

၁၄ အပေါ်မှာငါသက်ရောက်စေမည်။-များ၊ စွာသော
လူမျိုး၊ထို့နှင့်ကြီးသောရှင်ဘုရင်တို့သည်ခါလဒဲ
ပြည်သားတို့ကိုစေခားကြလိမ့်မည်၊သူတို့ကျင့်
သောအကျင့်၊ သူတို့ကိုယ်တိုင်ပြုသောအမှုနှင့်
အလျောက်၊အကျိုးအပြစ်ကိုငါဆပ်ပေးမည်။
၁၅ ဣသရေလ အမျိုး၏ ဘုရားသခင် ထာဝရ
ဘုရားကလည်း၊အမျက်တော်စပျစ်ရည်ဖလား
ကိုငထက်မှခံယူလော့၊ ငါသဉ်သင့်ကိုစေလွှတ်
သောလူမျိုးအပေါင်းတို့ကို သောက်စေလော့။-
၁၆ သူတို့အထဲသို့ငါစေလွှတ်သောထားကြောင့်
သူတို့သည်သောက်၍ယိမ်းယိုင်၍ရူးသွပ်ခြင်းသို့
ရောက်ကြလိမ့်မည်ဟု၊ငါအားမိန့်တော်မူသည်
၁၇ အတိုင်း၊-ငါသည်ထာဝရဘုရား၏လက်တော်မှ
ဖလားကို ငယူ၍၊ ထာဝရဘုရားသည် ငါ့ကို
စေလွှတ်တော်မူသော လူမျိုး အပေါင်း တို့ကို
၁၈ သောက်စေ၏။-ထိုလူမျိုးများဟူမူကား၊ယနေ့မှာ
သည်အတိုင်း၊လူဆိတ်ညံ့ရာ၊ထိတ်လန့်ဖွယ်ရာ၊
လှောင်ပြောင်ကဲ့ရဲ့ရာ၊ ကျိန်ဆဲရာ ဖြစ်စေခြင်းငှါ၊
သောက် ရသော ယေရုရှလင်မြို့သူ၊ ယုဒပြည်
၁၉ သား၊ယုဒရှင်ဘုရင်များ၊မှူးမတ်များ၊- အဲဂုတ္တု
ပြည်ကိုအစိုးရသောဖာရောဘုရင်အစရှိသောသူ
၏ကျွန်၊မှူးမတ်၊ ပြည်သူပြည်သား၊သူတို့နှင့်ရော
၂၀ နှောသော တပါးအမျိုးသား မှိသမျှ၊- ဥဇမင်း
အပေါင်း၊ဖိလိတ္တိမင်းအပေါင်း၊အာရှကေလုန်
ပြည်သား၊ ဂါဇ ပြည်သား၊ ဧကြုန် ပြည် သား၊
၂၁ ကျန်ကြွင်းသော အာရုတ်ပြည်သား၊- ဧဒုံပြည်
၂၂ သား၊မောဘပြည်သား၊အမ္မုန်ပြည်သား၊-တုရု
မင်းအပေါင်း၊ ဇိဒုန်မင်းအပေါင်း၊ပင်လယ်တ
၂၃ ဘက်၌အစိုးရသောမင်းများ၊- ဒေဒန်ပြည်သား၊
တေမပြည်သား၊ဗုဇပြည်သား၊ပါးစုန်းကိုရိတ်
၂၄ သတ်သောပြည်သားမှိသမျှ၊- အာရပ် မင်းအ
ပေါင်း၊ တောရွှ ၌နေ၍ အမျိုး မစပ်သော လူများ
၂၅ ကိုအစိုးရသော မင်းအပေါင်း၊- ဇိမရိမင်း အ
ပေါင်း၊ ဧလံမင်းအပေါင်း၊မေဒိမင်းအပေါင်း၊-
၂၆ အပါးနှင့်ဝေးသော၊ နီးသည်ဖြစ်စေ၊ ဝေးသည်ဖြစ်
စေ၊ မြောက်ပြည်မင်းမှိသမျှတို့နှင့်၊ မြေကြီးတ
ပြင်လုံး၌ရှိသမျှသော လောကနိုင်ငံအပေါင်းပေါ်
ကြသတည်း။ နောက်ဆုံး၌ ရှေ ရှက်ရှင် ဘုရင်
၂၇ သောက်ရမည်။-သင်တို့အထဲသို့ငါစေလွှတ်
သောထားကြောင့်သောက်၍ယစ်မူးကြ၊ အော့
အန်ကြ၊လဲကြ၊ နောက်တဖန်မထကြနှင့်ဟု၊ ဣ
သရေလအမျိုး၏ဘုရားသခင်၊ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားမိန့်တော်မူကြောင်းကို၊
၂၈ သူတို့အားဆင့်ဆိုလော့။- သူတို့သည်သောက်
ခြင်းငှါထိုဖလားကိုသင်၏လက်မှမခံ၊ငြင်းဆက်
လျှင်သဉ်း၊စင်စစ်သောက်ရကြမည်ဟု၊ကောင်း
ကင်ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့် တော်မူ
၂၉ ကြောင်းကို၊ သူတို့အား ပြန် ပြော လော့။- အ
ကြောင်းမူကား၊ငါ၏နာမဖြင့်သမုတ်သောမြို့ကို
ငါသည်အပြစ်ပေး၍ပြုလျှင်၊သင်တို့သည် ဒဏ်
အလျှင်းမခံဘဲနေရကြမည်လော၊ ဒဏ်မခံဘဲ
မနေရကြ၊ ငါသည်မြေကြီးသားမှိသမျှတို့အပေါ်
ထားကို မှာထိုတ်မည်ဟု၊ ကောင်းကင်ဗိုလ်ခြေ
အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၃၀ ထိုကြောင့်၊သင်သည်ပရောဖက်ပြုလျက်၊ သူ
တို့အားတောပြောရသောစကားများဟူမူကား၊
ထာဝရ ဘုရားသည် မြင့် သောအရပ်က ကျွေး
ကြော်တော် မူမည်၊ သန့်ရှင်းသော ဘုံဗိမာန် မှ
တော်က အသံကို ဖွင့်တော်မူမည်၊ ကျိန်း ဝပ်
တော်မူရာ အရပ်မှာ၊ တဝတ်၌ ပြင်းစွာ ကျွေး
ကြော်တော်မူမည်၊ စပျစ်သီးကို နင်းနယ် သော
သူများအော်တစ်သကဲ့သို့၊ မြေကြီးသားများ၊တ
၃၁ ဖက်၌အော်တစ်တော်မူမည်။-မြေကြီးစွန်းထိုင်
အောင် အသံ နှံ့ပြား လိမ့်မည်၊ ထာဝရဘုရား
သည် လူအမျိုးမျိုး တို့နှင့် တရား တွေ့စရာ အ
ကြောင်းရှိ၍၊ခပ်သိမ်းသောသတ္တဝါတို့ကိုအမှု
လုပ်တော်မူမည်၊ ဆိုးသော သူတို့ကို ထားနှင့်
ကွပ်မျက်စေခြင်းငှါအပ်တော်မူမည်ဟု၊ထာဝရ
ဘုရားမိန့်တော်မူ၏။
၃၂ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်
တော်မူသည်ကား၊ဘေးသည်တပြည်မှတပြည်
သို့ကူးသွားလိမ့်မည်၊ မြေကြီးအစွန်းအနားတို့မှ
၃၃ ပြင်းစွာသောလေဘွေသဉ်ထလိမ့်မည်။- ထိုအ
ခါ ထာဝရဘုရား ကွပ်မျက်တော် မူခြင်းကို ခံရ
သောသူတို့သည် မြေကြီးတဖက်မှ တဖက် ထိုင်
အောင်နှံ့ပြားကြလိမ့်မည်၊သူတို့ကိုမငြိုတမ်း
ရ၊ မစုမပုံရ၊ မသင်းဂြိုဟ်ရ၊ မြေပေါ်မှာမစင်ကဲ့
၃၄ သို့ဖြစ်ကြလိမ့်မည်၊- ဖိုးသိုးထိန်းတို့၊ ငိုကြွေး
အော်တစ်ကြလော့၊ ဖိုးသိုးကြီးသိုးမြတ်တို့၊ ပြာ
၌လူးလည်း၊လျက်နေကြလော့၊ သင်တို့ကို သတ်
ရသော အချိန် ရောက် လေပြီ၊ အရပ်ရပ်သို့ ငါ
မောင်းထုတ်၍၊ သင်တို့သည် အဘိုး ထိုက်သော
၃၅ တန်ဆာကျသကဲ့သို့ ဖြစ်ရကြ လိမ့်မည်၊- သိုး
ထိန်းတို့သည် ပြေးစရာ ထစ်မရှိ၊ သိုးကြီး၊ သိုး

မြိတ်တို့သည် လွတ်ရာလမ်းကိုရှာ၍မတွေ့ရကြ။-
၃၆ သိုးထိန်းများ ငိုကြွေး သံနှင့် သိုး ကြီး သိုး မြိတ်
များ မြည်သံကို ကြားရ၏။ အကြောင်းမူကား၊
ထာဝရဘုရားသည် သူတို့ကျက်စားရာအရပ်ကို
၃၇ ဖျက်ဆီးတော်မူ၏။- ထာဝရဘုရားသည် ပြင်း
စွာအမျက်ထွက်တော်မူသောအားဖြင့်၊ငြိမ်ဝပ်
စွာနေရာအရပ်တို့သည်လည်း၊ ပယ်ရှင်း ဖျက်
၃၈ ဆီး ခြင်းကိုခံရကြ၏။- ချင်သွေ့ ဘာသာမလေ့၊
နေတော်မူရာမြို့ကိုစွန့်ထွက်တော်မူပြီ။ညှဉ်းဆဲ
သောသူ၏ပြင်းထန်ခြင်း၊ ပြင်းစွာအမျက်ထွက်
ခြင်းအားဖြင့်၊ သူတို့ပြည်သည် လူ ဆိတ်ညံရာ
အရပ်ဖြစ်ရ၏။

## ၂၆

၁ ယုဒရှင်ဘုရင် ယောရှိသား ယောယကိမ်နန်း
ထိုင်စက၊ ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
၂ ရောက်လာ၍၊-ထာဝရဘုရားမိန့်တော်မူသည်
ကား၊ ငါ့ ဗိမာန် တော်၌ ကိုးကွယ် အံ့ သော ငှါ
ရောက်လာသောယုဒမြို့သူရွာသားအပေါင်းတို့
အားဆင့်ဆိုစေခြင်းငှါ၊ ငါသည်သင်၌မှာထား
သမျှသောစကားတို့ကို ဗိမာန်တော်တန်တိုင်း
ထဲမှာရပ်လျက်၊ သူတို့အား ပြန်ပြောလော့။ တ
၃ ခွန်း ကို မျှ မထိမ် မဖျက်နှင့်။- သူတို့သည် နား
ထောင်၍၊ အသီးအသီးမိမိတို့အဓမ္မလမ်းမှ လွှဲ
ရှောင်ကောင်း လွှဲရှောင်ကြလိမ့်မည်။ ငါသည်
ထဦး၊ သူတို့ပြုသောဒုစရိုက်ကြောင့်အပြစ်ပေး
၄ မည်ဟုကြံစည်ခြင်းကိုနောင်တရမည်။- သို့ဖြစ်
၍၊ သင်သည် ဆင့်ဆိုရမည်မှာ၊ ထာဝရဘုရား
မိန့်တော်မူသည်ကား၊ သင်တို့သည်ငါ့စကားကို
နားမထောင်၊ သင်တို့၌ ငါထား သော ပညတ်
၅ တရားလမ်းသို့မလိုက်၊-ငါသည်စောစောထ၍၊
သင်တို့ရှိရာသို့ အထပ်ထပ် စေလွှတ်သော ငါ၏
ကျွန် ပရောဖက်တို့ ၏ စကားကို နားမထောင်ဘဲ
နေ သကဲ့သို့၊ ယခုလည်း နား မထောင် ဘဲ နေ
၆ လျှင်၊- ဤအိမ်ကို ရှိလောရွာ ကဲ့သို့ ငါဖြစ်စေ
မည်၊ ဤမြို့ကိုလည်း၊ မြေပေါ်မှာ လူအမျိုးမျိုး
ကျိန်ဆဲသောမြို့ဖြစ်စေမည်ဟုမိန့်တော်မူ၏။
၇ ထိုစကားကို ဗိမာန် တော်၌ ယေရမိ ဟော
ပြောသည်ကိုယဇ်ပုရောဟိတ်များ၊ ပရောဖက်
၈ များ၊ လူများအပေါင်းတို့သည်ကြားကြ၏။- လူ
များအပေါင်းတို့အားဆင့်ဆိုစေခြင်းငှါ၊ထာဝရ
ဘုရားမှာထားတော်မူသမျှသော စကား တော်
ကို အကုန် ယေရမိ ဟော ပြောပြီးမှ၊ ယဇ်ပုရော
ဟိတ်၊ပရောဖက်၊လူများအပေါင်းတို့သည်ယေ
ရမိကိုဖမ်းဆီး၍၊သင်သည်အသေသတ်ခြင်းကို
၉ အမှန်ခံရမည်။- ဤအိမ်တော်သည် ရှိလောရွာ
ကဲ့သို့ ဖြစ်လိမ့်မည်။ ဤမြို့သည်လူမရှိ၊ ဆိတ်ညံ
ရာ အရပ် ဖြစ်လိမ့်မည်ဟု၊ သင်သည် ထာဝရ
ဘုရား၏နာမတော်ကိုအမှီပြု၍အဘယ်ကြောင့်
ဟောသနည်းဟုပြောဆိုလျက်၊လူများအပေါင်း
တို့သည် ဗိမာန်တော်တွင် ယေရမိ တဖက်၌ စု
၁၀ ဝေးကြ၏။-ယုဒမှူးမတ်တို့သည်ထိုအမှုကိုကြား
သိသောအခါ၊နန်းတော်မှဗိမာန်တော်သို့လာ
၍၊ဗိမာန်တော်တံခါးသစ်အတွင်း၌ထိုင်ကြ၏။-
၁၁ ယဇ်ပုရောဟိတ်နှင့်ပရောဖက်တို့က၊ဤသူသည်
အသေခံထိုက်ပေ၏။ သင်တို့သည်ကိုယ်နားနှင့်
ကြားသည်အတိုင်း၊ဤမြို့ကိုဆန့်ကျင်ဘက်ပြု၍
ဟောပြောပါပြီတကား ဟု၊ မှူးမတ်အစရှိသော
၁၂ လူများ အပေါင်းတို့အား ပြောဆိုကြ၏။- ယေရ
မိကလည်း၊ သင်တို့ကြားသမျှအတိုင်း၊ ဤအိမ်
တော်နှင့်ဤမြို့တော်ကိုဆန့်ကျင်ဘက်ပြု၍ဟော
ပြော စေ ခြင်း ငှါ၊ ထာဝရဘုရားသည် ငါ့ကို စေ
၁၃ လွှတ်တော်မူပြီ။-ယခုမှာသင်တို့၏ကျင့်ကြံပြုမူ
ခြင်းတို့ကို ပြောင်းလဲကြလော့။ သင်တို့၏ဘုရား
သခင် ထာဝရ ဘုရား ၏ စကား တော် ကို နား
ထောင်ကြလော့။သို့ပြုလျှင်၊ထာဝရဘုရားသည်
သင်တို့ ၌ အားဥပါတ် ရောက်စေ မည်ဟု ကြံ
တော် မူ သော် လည်း၊ တဖန် နောင်တ ရတော်မူ
၁၄ လိမ့်မည်။- ငါမူကား၊ သင်တို့ လက်၌ ရှိ ပါ၏။
သင်တို့စိတ်၌ ကောင်းမြတ် လျောက်ပတ်သည်ဟု
၁၅ ထင်သည့်အတိုင်း၊ငါ့ကိုပြုကြလော့။- သို့ရာတွင်၊
ငါ့ကိုသတ်လျှင် အပြစ်မရှိသော အသွေးကို သင်
တို့သည် ကိုယ်အပေါ်သို့၎င်း၊ ဤမြို့နှင့် မြို့သားတို့
အပေါ်သို့၎င်း၊ စင်စစ် ရောက်စေလိမ့်မည်ဟု၊ ဧ
ကန်အမှန် သိမှတ်ကြလော့။ ဤစကား အလုံးစုံ
တို့ကိုသင်တို့အား ကြားပြောမည် အကြောင်း၊
ထာဝရဘုရားသည် ငါ့ကိုစင်စစ်စေလွှတ်တော်မူ
ပြီဟု၊ မှူးမတ် အစရှိသော လူများ အပေါင်း တို့
၁၆ အား ပြောဆိုလေ ၏။- ထိုအခါ မှူးမတ် အစ ရှိ
သောလူများအပေါင်းတို့က၊ဤသူသည် အသေ
ခံ ထိုက်သည် မဟုတ်၊ ငါတို့ ဘုရားသခင် ထာ
ဝရဘုရား၏နာမတော်ကို အမှီပြု၍၊ ငါတို့အား
ဟောပြောသေပြီဟု၊ယဇ်ပုရောဟိတ်နှင့်ပရော
၁၇ ဖက် တို့အားပြောဆိုကြ၏။- ပြည်သားအသက်
၁၈ ကြီးသူအချို့ကလည်း၊ ယုဒရှင်ဘုရင်ဟေဇကိ

ထက်ထက်၊ မောရရှက္ခသား မိက္ခာသည် ပရော
ဖက်ပြုလျက်၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ဇိအုန်တောင်သည်
လယ်ကဲ့သို့ ထွန်ခြင်းကိုခံရလိမ့်မည်။ ယေရုရှ
လင်မြို့သည်လည်း၊ မြေပုံများဖြစ်လိမ့်မည်။ ဗိတ်
မှန်တော်တောင်သည် လည်း၊ တောတောင် ကဲ့
သို့ဖြစ်လိမ့်မည်ဟု၊ ယုဒပြည်သားအပေါင်းတို့
၁၉ အားဟောပြော၏။- ထိုအခါယုဒပြည်သား အ
ပေါင်းတို့နှင့်တကွ၊ ယုဒရှင်ဘုရင်ဟေဇကိသည်
ထိုပရောဖက်ကို သတ် သလော။ ထိုမင်း သည်
ထာဝရဘုရားကို ကြောက်ရွံ့သည်မဟုတ်သလော။
ရှေ့တော်၌တောင်းပန်သည်မဟုတ်သလော။ ထာ
ဝရဘုရားသည် သူတို့၌ ဘေးဥပါတ်ကိုရောက်
စေမည် ဟု ဗြမ်းတော် မူသော် လည်း၊ တဖန်
နောင်တာ ရတော်မူသည် မဟုတ် သလော။ ငါတို့မူ
ကား၊ ကိုယ်အကျိုးကို ဖျက်ဆီး ခြင်းငှါ ပြုကြ
သည်တကားဟု၊ စည်းဝေးသောသူအပေါင်းတို့
အားပြောဆိုကြ၏။
၂၀ ကိရယတ်ယာရိမ်မြို့နေ၊ ရှေမာယ၏သားဥရိ
ယာသည်လည်း၊ ထာဝရဘုရား၏ နာမတော်ကို
အမှီပြု၍၊ ထိုမြို့နှင့်ထိုပြည်တဖက်၌ပရောဖက်
ပြု၍၊ ယေရမိဟောပြောသောစကားနှင့် တညီ
၂၁ တည်း ဟော ပြော ၏။- ယောယကိမ် မင်း ကြီး
နှင့်မင်းများ၊ မှူးမတ်များအပေါင်းတို့သည် ထို
ပရောဖက်၏စကားကို ကြားသော အခါ၊ သူကို
သတ်အံ့ သော ငှါ မင်းကြီးသည် ရှာကြံ၏။ ထို
သိတင်းကိုကြားလျှင်၊ ဥရိယသည်ကြောက်၍၊
၂၂ အဲဂုတ္တုပြည်သို့ပြေးသွားလေ၏။-ယောယကိမ်
မင်းကြီးသည် အာခဗော်သား ဧလနာသန်နှင့်
တကွ လူအချို့တို့ကို အဲဂုတ္တုပြည်သို့ စေလွှတ်
၂၃ ၍၊- ထိုသူတို့သည် ဥရိယ ကို အဲဂုတ္တုပြည်မှ
ယောယကိမ်မင်းထံသို့ပို့ဆောင်သဖြင့်၊မင်းကြီး
သည်ဥရိယကိုထားနှင့်သတ်၍၊ အသေကောင်
ကိုဆင်းရဲသားတို့၏ သင်းချိုင်း၌ ပြစ်ထား လေ
၂၄ ၏။- သို့သော်လည်း၊ ရှာဖန်သားအဟိကံသည်
ယေရမိကိုမစသော့ကြောင့်၊အသေခံစေခြင်းငှါ
လူများတို့လက်သို့မအပ်ရ။

၂၇

၁ ယုဒရှင်ဘုရင်ယောရှိသား ယောယကိမ် မင်းနန်း
ထိုင်စက၊ ထာဝရဘုရား ၏ နှုတ် ကပတ် တော်
၂ သည်ယေရမိသို့ရောက်လာ၍၊- ထာဝရဘုရား
သည်ငါ့အားမိန့်တော်မူသည်ကား၊ကြိုးနှင့်ထမ်း
ပိုး များ ကို လုပ်၍၊ သင် ၏ လည် ပင်း၌ တပ်
၃ လော့။-ယုဒရှင်ဘုရင်ဇေဒကိထံ၊ယေရုရှလင်မြို့
သို့ရောက်လာသောသံတမန်တို့တွင်၊ထိုကြိုးနှင့်
ထမ်းပိုးတို့ကို ဧဒုံမင်း၊ မောဘမင်း၊ အမ္မုန်
၄ မင်း၊တုရုမင်း၊ဇိဒုန်မင်းသို့ပေးလိုက်လော့။-ထို
သံတမန်တို့အားလည်း၊သင်တို့သည်သင်တို့အ
ရှင်များတို့အား ဆင့်ဆိုရမည်မှာ၊ ဣသရေလ
အမျိုး၏ ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအ
၅ ရှင်ထာဝရဘုရား မိန့်တော် မူသည်ကား၊- ငါ
သည်မဟာတန်ခိုးနှင့်လက်ရုံးကိုဆန့်လျက်မြေ
ကြီး ကို၎င်၊ မြေ ကြီး ပေါ်မှာ ရှိသော လူနှင့် တိ
ရိစ္ဆာန်တို့ကို၎င်ဖန်ဆင်းသည်ဖြစ်၍၊ ငါသည်
၆ ပေးလိုသောသူတို့အားပေး၏။- ယခုမှာ ဤပြည်
ရှိသမျှတို့ကို ငါ့ကျွန်ဗာဗုလုန်ရှင်ဘုရင်၊ နေဗုခဒ်
နေဇာ လက်သို့ ငါအပ် ပေးပြီ။ သူစေစား ခြင်းငှါ
၇ တောတိရိစ္ဆာန်များကိုလည်းငါပေးပြီ။- သူ၏
နိုင်ငံဆိုးချိန်မရောက်မှီတိုင်အောင်၊ဤပြည်သား
အပေါင်းတို့သည်သူ၏အမှုနှင့်သူ၏သားမြေးအ
မှုကိုဆောင်ရွက်ရကြမည်။ ထိုအချိန်ရောက်မှ၊
များစွာသောလူမျိုးတို့နှင့်ကြီးသောရှင်ဘုရင်တို့
၈ သည်သူကိုစေစားကြလိမ့်မည်။-ထာဝရဘုရား
မိန့်တော်မူသည်ကား၊ ဗာဗုလုန်ရှင်ဘုရင်နေဗု
ခဒ်နေဇာ ၏ အစေကို မခံ၊ သူ၏ ထမ်း ပိုးကို မ
ထမ်းလိုသောတိုင်းနိုင်ငံရှိသမျှကို၊သူ၏လက်၌
ဆုံး ရှုံးစေခြင်း ငှါ၊ ထားဘေး၊ မွတ်သိပ် ခြင်း
ဘေး၊ ကာလနာဘေးဖြင့် ငါအပြစ်ပေးမည်။-
၉ သို့ဖြစ်၍၊ သင်တို့သည်ဗာဗုလုန်ရှင်ဘုရင်၏အ
စေကို မခံ ရဟု၊ သင် တို့ အား ပြောတတ် သော
ပရောဖက်၊ အနာဂတ်ဆရာ၊ အိပ်မက်မြင်သော
ဆရာ၊ နတ်ဝိဇ္ဇာဆရာ၊ ပြုစားတတ်သောဆရာ
၁၀ တို့၏စကားကို နားမထောင် ကြနှင့်။- ထိုသူတို့
သည်သင်တို့ကိုသင်တို့ပြည်မှ အဝေးသို့ရွှေ့သွား
စေခြင်းငှါ၎င်၊ သင်တို့ကိုငါနှင်ထုတ်၍ ဆုံးရှုံး
စေခြင်းငှါ၎င်၊ မုသာစကားကို ဟောပြောတတ်
၁၁ ကြ၏။- ဗာဗုလုန်ရှင်ဘုရင်၏ထမ်းပိုးကိုထမ်း
၍၊ သူ၏အစေကိုခံသော လူမျိုးတို့အား၊ မိမိတို့
ပြည်၌နေရသောအခွင့်ကိုငါပေးသဖြင့်၊ သူတို့
သည် မိမိတို့မြေ၌ လုပ်၍ နေရ ကြလိမ့်မည်ဟု၊
ထာဝရဘုရားမိန့်တော်မူ၏။
၁၂ ထိုစကား တော် ရှိသမျှကို ငါပြန် ၍ ယုဒရှင်
ဘုရင်ဇေဒကိအားလျှောက်ဆိုသည်ကား၊ ဗာ
ဗုလုန်ရှင်ဘုရင်၏ ထမ်းပိုးကိုထမ်း၍၊ သူနှင့်

သူ၏လူများ အစေကို ခံလျှက်၊ အသက်ရှင်သော
၁၃ ပါလော့။– ဗာဗုလုန် ရှင်ဘုရင်၏ အစေကို မခံ
သော လူမျိုးကို ထာဝရဘုရား ရည် မှတ်၍ မိန့်
တော်မူသည် အတိုင်း၊ ထိုသင် တော် နှင့် ကိုယ်
တော် ၏ လူတို့သည် ထားဘေး၊ မွတ် သိပ်ခြင်း
ဘေး၊ကာလနာဘေးဖြင့်အဘယ်ကြောင့်သေရ
၁၄ ပါမည်နည်း။– သင်တို့သည်ဗာဗုလုန်ရှင်ဘုရင်
၏ အစေကို မခံရဟု၊ သင်တို့ အား ဟော ပြော
သောပရောဖက်တို့၏စကားကို နားမထောင်ကြ
နှင့်။သူတို့သည်မုသာစကားကိုဟောပြောတတ်
၁၅ ကြ၏။– ထာဝရဘုရား မိန့်တော် မူသည်ကား၊
သင်တို့နှင့် သင်တို့အား ဟောပြောသော ပရော
ဖက်တို့ကိုငါနှင်ထုတ်၍ ဆုံးရှုံးစေခြင်းငှါ၊ ငါမ
စေလွှတ်ဘဲ သူတို့သည်ငါ့နာမကိုအမှီပြု၍မုသာ
စကားကိုဟောပြောတတ်ကြ၏။
၁၆ ထိုမှတပါး ပရောဟိတ်တို့နှင့် လူအပေါင်း တို့အား
ငါသည်၊ ထာဝရဘုရား၏အမိန့်တော်ကို ငါပြန်
ပြောသည်ကား၊ ကာလမကြာမမြင့်မှီ၊မိတ်မှန်
တော်တန်ဆာတို့ကိုဗာဗုလုန်မြို့မှတဖန်ဆောင်
ခဲ့လိမ့် မည်ဟု၊ သင်တို့အား ဟောပြော သော
ပရောဖက်တို့ ၏ စကားကို နားမထောင်ကြနှင့်၊
သူတို့သည် မုသာစကားကိုဟောပြောတတ်ကြ
၁၇ ၏။–သူတို့၏စကားကိုနားမထောင်ကြနှင့်၊ဗာဗု
လုန်ရှင်ဘုရင်၏အစေကိုခံ၍၊ အသက်ရှင်းသာ
ကြလော့။ ဤမြို့သည် အဘယ်ကြောင့် ပျက်စီး
၁၈ ခြင်းသို့ ရောက်ရမည်နည်း။– သူတို့သည် ထာ
ဝရဘုရား၏ဗျာဒိတ်တော်ကိုခံ၍၊ပရောဖက်မှန်
လျှင်၊ မိတ်မှန်တော်၌၎င်း၊နန်းတော်၌၎င်း၊ ယေရု
ရှလင်မြို့၌၎င် ကျန်ကြွင်းသေးသော တန်ဆာတို့
ကိုဗာဗုလုန်မြို့သို့ယူ၍မသွားရမည်အကြောင်း၊
ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရဘုရားအား
၁၉–၂၀ တောင်းပန်ကြလော့၊– ဗာဗုလုန် ရှင်ဘုရင်
နေဗုခဒ်နေဇာသည်ယုဒရှင်ဘုရင်ယောယကိမ်
သားယေခေါနိအစရှိသောယုဒပြည်ယေရုရှလင်
မြို့ မှူးတော်မတ်တော် အပေါင်းတို့ကို၊ ယေရုရှ
လင်မြို့မှ ဗာဗုလုန်မြို့သို့သိမ်းသွားသောအခါ၊
ထိုရှင်ဘုရင်သည်မသိမ်းမယူ၊ မိတ်မှန်တော်၌
၎င်း၊ နန်းတော်၌၎င်း၊ ယေရုရှလင် မြို့၌ ၎င် ကျန်
ကြွင်းသေးသောတိုင်၊ ရေကန်၊ ရေကန် အခြေ
အမြစ်များ၊ ကျန်ကြွင်းသေးသော တန်ဆာများ
တို့ကို ရည်မှတ်၍၊ ဣသရေလ အမျိုး၏ ဘုရား
သခင်၊ကောင်းကောင်ဗိုလ်ခြေအရှင်ထာဝရဘုရား

၂၂ မိန့်တော်မူသည်ကား၊– ထိုတန်ဆာတို့ကိုဗာဗု
လုန်မြို့သို့ ယူသွားရလိမ့်မည်၊ ငါအကြည့်အရှု
မကြွလာမှီ တိုင်အောင်၊ ထိုမြို့၌ ရှိနေရကြလိမ့်
မည်၊ ငါ ကြွလာသောအခါ၊ ထိုတန်ဆာ တို့ကို
ငါ ဆောင်ခဲ့၍၊ ဤအရပ်၌ ပြန် ထားမည်ဟု မိန့်
တော်မူ၏။

၂၈

၁ ထိုနှစ်တည်းဟူသော ယုဒရှင်ဘုရင် ဇေဒကိ
နန်းစံစတုတ္ထနှစ်၊ ပဉ္စမလတွင်၊ဂိဗောင်မြို့နေ၊
၂ အာဇုရသား ဟာနနိက၊– ဣသရေလ အမျိုး၏
ဘုရားသခင်၊ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား မိန့်တော် မူသည် ကား၊ ဗာဗုလုန် ရှင်
၃ ဘုရင်၏ထမ်းပိုးကိုငါချိုးမည်၊– ဗာဗုလုန်ရှင်
ဘုရင်နေဗုခဒ်နေဇာသည်ဤအရပ်မှဗာဗုလုန်မြို့
သို့ယူသွားသောမိတ်မှန်တော်တန်ဆာအလုံးစုံ
တို့ကိုနှစ်နှစ်အတွင်း၌၊ဤအရပ်သို့ငါဆောင်
၄ ခဲ့ဦးမည်၊– ဗာဗုလုန်မြို့သို့သိမ်းသွားသောယုဒ
ပြည်သားအပေါင်းတို့နှင့်တကွ၊ ယုဒရှင်ဘုရင်
ယောယကိမ်သား ယေခေါနိမင်းကိုလည်း၊ ဤ
အရပ် သို့ ငါဆောင်ခဲ့ ဦး မည်၊ ဗာဗုလုန် ရှင်
ဘုရင် ၏ ထမ်း ပိုးကို ငါချိုး မည်ဟု၊ ထာဝရ
ဘုရား မိန့်တော်မူကြောင်းကို၊ မိတ်မှန်တော်၌
ထိုမှပရောဟိတ်များ၊ လူများအပေါင်းတို့ ရှေ့
၅ မှာငါ့အားပြောဆို၏။–ထိုအခါ ပရောဖက်ယေရ
မိသည် မိတ်မှန်တော်၌ရပ်နေသော ထိုမှပရော
ဟိတ်များနှင့်လူ များ အပေါင်းတို့ရှေ့မှာ၊ပရော
၆ ဖက်ဟာနနိအားပြန်ပြောသည်ကား၊–အာမင်၊
ထာဝရဘုရား ပြုတော် မူပါစေ သော၊ မိတ်မှန်
တော်တန်ဆာ များနှင့် တကွ၊ ဤအရပ်မှ ဗာဗု
လုန်မြို့သို့ သိမ်းသွားသောသူများ အပေါင်းတို့
ကို၊ ထာဝရဘုရားသည်တဖန်ဆောင်ခဲ့၍၊ သင်
ဟောပြောသောစကားမှန်ကြောင်းကိုပြုတော်မူ
၇ ပါစေသော။– သို့ရာတွင်၊ သင်နှင့် တကွ လူအ
ပေါင်းတို့အားငါယခု ဟောပြောသောစကားကို
၈ နားထောင်လော့။– ငါတို့ မဖြစ်မှီ ရှေးကာလ၌
ဖြစ်ဘူးသောပရောဖက်တို့သည်၊ များပြားသော
ပြည်၊ အားကြီးသောတိုင်းနိုင်ငံတို့ကို ရည်မှတ်
၍၊စစ်တိုက်မည်အကြောင်း၊ဘေးရောက်မည်အ
ကြောင်း၊ ကာလနာပေါ်မည် အကြောင်းတို့ကို
၉ ဟောပြောတတ်ကြ၏။–ငြိမ်ဝပ်မည်အကြောင်း
ကို ဟော ပြော သောပရော ဖက် မှ လျှင်၊ သူ၏
စကား ပြည့် စုံသောအခါ စင်စစ် ထာဝရဘုရား

စေလွှတ်တော်မူသော ပရောဖက် ဖြစ်ကြောင်း၊
၁၀ ထင်ရှား လိမ့်မည် ဟု ပြော ဆို၏။– ထို အခါ
ပရောဖက်ဟာနနိသည်ပရောဖက်ယေရမိသည်
၁၁ ပင်းမှ ထမ်းဘိုးကို ထုတ်၍ ချိုး လျက်၊– ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ထိုသို့လူအမျိုးမျိုး
တို့၏ထည်ပင်းပေါ်မှာ ဗာဗုလုန်ရှင်ဘုရင်နေဗု
ခဒ်နေဇာတင်သော ထမ်းဘိုးကို နှစ်နှစ်အတွင်း
တွင် ငါချိုးပယ်မည်ဟု မိန့်တော်မူကြောင်းကို၊
လူအပေါင်းတို့ရှေ့မှာပြောဆို၏။ ထိုအခါပရော
ဖက်ယေရမိသည်ထွက်သွားလေ၏။
၁၂ ပရောဖက်ဟာနနိသည်ပရောဖက်ယေရမိ၏
ထည်ပင်းမှထမ်း ဘိုးကို ချိုးပယ်သောနောက်၊
တဖန်ထာဝရဘုရား၏ နှုတ်ကပတ် တော်သည်
၁၃ ယေရမိသို့ ရောက် လာ သည်ကား၊– သင်သွား
၍ ထာဝရဘုရား၏ အမိန့်တော်ကို ဟာနနိအား
ဆင့်ဆိုရမည်မှာ၊ သင်ချိုးသောသစ်သားထမ်း
၁၄ ဘိုးအစား၊ သံထမ်းဘိုးကိုလုပ်ရမည်။– ဣသ
ရေလအမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
ဤလူမျိုးရှိသမျှတို့သည် ဗာဗုလုန်ရှင်ဘုရင်နေ
ဗုခဒ်နေဇာ၏အစေကိုခံစေခြင်းငှါ၊ သူတို့ထည်
ပင်းပေါ်မှာ သံထမ်းဘိုးကို ငါတင် ပြီ။ ထိုသူ
တို့သည်ထိုမင်း၏အစေကိုခံရကြမည်။တောတိ
ရိစ္ဆာန်များကိုထည်း၊ သူ၌ငါအပ်ပေးပြီဟုမိန့်
၁၅ တော်မူ၏။– ပရောဖက်ယေရမိကထည်း၊ ဟာန
နိ၊ နားထောင်လော့။ ထာဝရဘုရားသည် သင့်
ကို စေလွှတ်တော်မမူ။ ဤလူမျိုးသည် မုသာ၌
၁၆ မှီတွဲမည် အကြောင်းကို သင် ပြုတတ်၏။– ထို
ကြောင့်၊ ထာဝရဘုရား မိန့်တော်မူသည်ကား၊
အင်သည်ထာဝရဘုရားကို ပုန်ကန်စေခြင်းငှါ
သွန်သင်သောကြောင့်၊ သင့်ကိုမြေပြင်မှငါပယ်
ရှင်းမည်။ ယခုနှစ်တွင်သင်သည်သေရမည်ဟု၊
၁၇ ပရောဖက်ဟာနနိအားပြောဆို၏။–ထိုသို့နှင့်အ
ညီပရောဖက် ဟာနနိသည်ထိုနှစ်တွင်၊ သတ္တမ
လ၌သေလေ၏။

၂၉

၁-၃ ရှင်ဘုရင် ယေခေါ နိနှင့်တကွ မိဖုရား အစ
ရှိသော မိမ္ဗမိုးများ၊ ယုဒပြည်ယေရုရှလင်မြို့မှူး
တော်မတ်တော်များ၊လက်သမား၊ပန်းပဲသမား
များတို့သည်ယေရုရှလင်မြို့မှသွားသောနောက်၊
ယုဒရှင်ဘုရင်ဇေဒကိသည် ဗာဗုလုန်ရှင်ဘုရင်
နေဗုခဒ်နေဇာထံ၊ဗာဗုလုန်မြို့သို့စေလွှတ်သော
ရှာဖန်သား ဧလာသာ နှင့် ဟိလကိ သား ဂေမရိ
တွင်၊ ပရောဖက်ယေရမိသည်စာရေး၍ ယေရုရှ
လင်မြို့မှ ဗာဗုလုန် မြို့ သို့ နေဗုခဒ် နေဇာ သိမ်း
သွားခြင်းကို ခံရသော အသက်ကြီးသူ၊ ယဇ်ပ
ရောဟိတ်၊ ပရောဖက်၊ ဆင်းရဲသား ကျန်ကြွင်း
သမျှတို့နေရာသို့ယေရုရှလင်မြို့မှပေးလိုက်သော
၄ စာဟူမူကား၊–ဣသရေလအမျိုး၏ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရားသည်
ယေရုရှလင်မြို့မှ ဗာဗုလုန်မြို့သို့ သိမ်းသွား စေ
တော် မူသော သူ အပေါင်း တို့ အား မိန့် တော်မူ
၅ သည်ကား၊– အိမ်တို့ကို ဆောက်၍ နေရာချကြ
လော့။ဥယည်တို့ကိုစိုက်ပျိုး၍အသီးကိုစားကြ
၆ လော့။– သင်တို့သည်ထိုပြည်၌ခေါင်းပါးခြင်းမ
ရှိ၊တိုးပွားများပြားမည်အကြောင်း၊ မယားနှင့်
နေ၍သားသမီးကို ဖွားမြင်ကြလော့။သားသမီးတို့
ကိုလည်း၊အချင်းချင်းတယောက်ကိုတယောက်
ပေးစား၍၊ တဖန် သားသမီးကို ဖွားမြင် စေကြ
၇ လော့။– ငါသည် သင်တို့ကိုသိမ်းသွားစေသော
မြို့သည်လည်း၊ငြိမ်သက်ခြင်းရှိမည်အကြောင်း
ကိုပြုစု၍၊ ထိုမြို့ အဖို့ အလို ငှါ၊ ထာဝရဘုရား
အားမေတ္တာပို့ကြလော့။ ထိုမြို့၏ ငြိမ်သက်ခြင်း
အားဖြင့်၊ သင်တို့သည်ထည်း ငြိမ်သက်ခြင်းရှိ
၈ ကြလိမ့်မည်။ ဣသရေလအမျိုး၏ဘုရားသခင်၊
ကောင်း ကင် ဗိုလ်ခြေ အရှင် ထာဝရဘုရားမိန့်
တော်မူသည် ကား၊ သင်တို့တွင် ရှိသော ပရော
ဖက်ဆရာ၊အနာဂတ်ဆရာတို့သည်သင်တို့ကိုမ
လှည့်စားကြစေနှင့်။ သင်တို့ မြင်စေသော အိပ်
၉ မက်တို့ကိုလည်း မယုံမမှတ်ကြနှင့်။– တဖန်မိန့်
တော်မူသည်ကား၊ ထိုဆရာတို့သည်ငါစေလွှတ်
သော သူမဟုတ်ဘဲ၊ ငနာမ ကို အမှီပြု၍ မုသာ
၁၀ စကားကို ဟောပြော ကြ၏။– တဖန် မိန့်
တော်မူသည်ကား၊ ဗာဗုလုန်မြို့၌ အနှစ် ခုနှစ်
ဆယ်စေ့သောအခါ၊ သင်တို့ကိုငါအကြည့်အရှု
ကြွလာမည်။ငါထားသောဂတိကောင်းကိုတည်
စေ၍၊သင်တို့ကိုဤပြည်သို့ငါပို့ဆောင်ဦးမည်။–
၁၁ တဖန်မိန့်တော်မူသည်ကား၊ ငါသည်သင်တို့ကို
အကျိုး နည်းစေခြင်းငှါ ကြံစည် သော အကြံ မ
ဟုတ်ဘဲ၊ သင်တို့သည်မျှော်လင့်သောအကျိုးကို
ရမည်အကြောင်း၊ ငြိမ်ဝပ်စေခြင်းငှါသာ၊သင်
၁၂ တို့အဖို့ကြံစည်သောအကြံတို့ကိုငါသိ၏။–တဖန်
မိန့်တော်မူသည်ကား၊ သင်တို့သည်ငါ့ကိုခေါ်၍
သွားလာကြလိမ့်မည်။ ဆုတောင်းသော အခါ

၁၃ သင်တို့ စကားကို ငါနားထောင်မည်။– ကြိုးရှာ
သောအခါ စိတ်နှလုံးအကြွင်းမဲ့နှင့် ရှာလျှင်
၁၄ တွေ့ကြလိမ့်မည်။– ငါသည်လည်း၊ သင်တို့အ
တွေ့ကိုခံမည်။ အထက်ကငါနှင်ထုတ်၍ သင်တို့
ခံရသောသိမ်းသွားခြင်းအမှုကို ငါသည်ပြေရှင်း
ခြင်းငှါ၊ တိုင်းနိုင်ငံအရပ်ရပ်တို့မှသင်တို့ကိုငါစု
သိမ်းပြီးလျှင်၊ အထက်ကငါနှင်ထုတ်၍၊ သင်
တို့နေသောပြည်သို့ တဖန်ငါဆောင်ခဲ့ဦးမည်ဟု၊
ထာဝရဘုရားမိန့်တော်မူ၏။
၁၆ ဒါဝိဒ်၏ ရာဇ ပလ္လင် ပေါ်မှာ ထိုင်သော ရှင်
ဘုရင်မှစ၍၊ ဤမြို့၌နေသော သူအပေါင်းတည်း
ဟူသော၊သင်တို့နှင့်အတူ သိမ်းသွားခြင်းကိုမခံ
ရသော သင်တို့ညီအစ်ကို များကို ရည်မှတ်၍၊–
၁၇ ကောင်း ကင် ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်
တော်မူသည်ကား၊ သူတို့အပေါ်မှာ ထားဘေး၊
နွတ်ဆိပ်ခြင်းဘေး၊ ကာလနာဘေးတို့ကိုငါစေ
လွှတ်မည်။ မစားနိုင်အောင် အလွန် ဆိုးသော
၁၈ သင်္ဘောသဖန်းသီးကဲ့သို့ ငါဖြစ်စေမည်။–သူတို့
ကို ထားဘေး၊ နွတ်ဆိပ်ခြင်း ဘေး၊ ကာလနာ
ဘေးဖြင့် ငါလှည်းဆဲမည်။ ငါနှင်ရာ အရပ်ရပ်
တို့၌လူအမျိုးမျိုးတို့တွင်၊သူတို့သည်ကျိန်ဆဲရာ၊
မိန်းမောဖွယ်ရာ၊ ကဲ့ရဲ့သံကိုကြားရာ၊ အသရေ
ရှုတ်ချရာ ဖြစ်မည်အကြောင်း၊ မြေပေါ်မှာတိုင်း
နိုင်ငံရှိသမျှတို့၏နှောင့်ရှက်ခြင်းသို့ သူတို့ကို ငါ
၁၉ အပ်မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။– အ
ကြောင်းမူကား၊ ငါသည်စောစောထ၍၊အထပ်
ထပ်မှာထားစေလွှတ်သောငါ၏ကျွန် ပရောဖက်
တို့၏ စကားကို သူတို့သည် နားမထောင်ကြဟု၊
၂၀ ထာဝရဘုရား မိန့်တော်မူ၏။–ထိုကြောင့်၊သိမ်း
သွားခြင်းကိုခံရ၍၊ ယေရုရှလင်မြို့မှ ဗာဗုလုန်
မြို့သို့ ငါစေလွှတ်သော သူအပေါင်းတို့၊ ထာဝရ
ဘုရား၏ စကားကို နားထောင် ကြလော့ဟု မိန့်
တော်မူ၏။
၁၅ ထာဝရဘုရားသည်ငါတို့အဖို့ပရောဖက်များ
ကိုဗာဗုလုန်မြို့၌ပေါ်ထွန်းစေတော်မူပြီဟု၊သင်
၂၁ တို့ ဆို ကြ သည် ဖြစ်၍၊– ဣသရေလ အမျိုး၏
ဘုရားသခင်၊ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ငါ၏နာမကိုအမှီပြု
၍ သင်တို့အား မုသာစကားကိုဟောပြောသော၊
ကောလာယသား၊ အာဟပ်နှင့် မာသေယသား
ဇေဒကိတို့ကိုဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာ
လက်သို့ငါအပ်၍၊ထိုမင်းသည်သူတို့ကိုသင်တို့
၂၂ မျက်မှောက်၌သတ်လိမ့်မည်။– ဗာဗုလုန်မြို့သို့
သိမ်းသွားခြင်းကို ခံရသော ယုဒအမျိုးသား အ
ပေါင်းတို့က၊ ဗာဗုလုန်ရှင်ဘုရင်သည်မီး၌ကင်သော
ဇေဒကိနှင့်အာဟပ်ကဲ့သို့၊ ထာဝရဘုရားသည်
သင့်ကို ဖြစ်စေတော် မူပါစေဟု၊ ထိုသူ တို့ ကို ဝို
၂၃ ဆောင်၍ ကျိန်ဆဲကြလိမ့်မည်။– အကြောင်းမူ
ကား၊ သူတို့သည်ဣသရေလအမျိုး၌အဓမ္မအမှု
ကိုပြုကြပြီ၊ သူမယားတို့ကိုပြစ်မှားကြပြီ။ ငါမ
မှာထားသော်၊ ငါ၏နာမကို အမှီပြု၍ မုသာစကား
ကိုဟောပြောကြပြီ၊ ငါသိသည်အတိုင်း သက်
သေဖြစ်သည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။
၂၄ နေဟေလံရွာသား ရှေမာယကို လည်းပြောရ
၂၅ မည်မှာ၊– ဣသရေလ အမျိုး၏ ဘုရားသခင်
ကောင်း ကင် ဗိုလ် ခြေ အရှင် ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင်သည်ငါ၏နာမကိုအမှီ
ပြု၍၊ ယဇ်ပုရောဟိတ် မာသေယသား ဇေဖနိ
အစရှိသောယဇ်ပုရောဟိတ်များတို့နှင့် ယေရု
၂၆ ရှလင်မြို့သားရှိသမျှတို့ကိုစာပေးလိုက်၍၊–သင်
သည် ဗိမာန်တော်၌ လူစောင့်ကို ခန့် ထား အ
ဖြင့်၊ပရောဖက်လုပ်သောအရူးရှိသမျှကိုထောင်
ထဲမှာ လှောင်၍ ထိတ်ခတ်စေခြင်းငှါ၊ ထာဝရ
ဘုရားသည်ယဇ်ပုရောဟိတ်ယောယဒ၏ကိုယ်
စား သင့်ကို ယဇ်ပုရောဟိတ် အရာ၌ ခန့် ထား
၂၇ တော်မူ၏။–သို့ဖြစ်၍၊သင်တို့တွင်ပရောဖက်လုပ်
သော အာနသုတ် ရွာသား ယေရမိကို အဘယ်
၂၈ ကြောင့် မဆုံးမ သနည်း။– သူကလည်း၊ ဤအမှု
ကြာလိမ့်မည်။ အိမ်တို့ကိုဆောက်၍နေရာချကြ
လော့။ ဥယျာဉ်တို့ကိုစိုက်ပျိုး၍အသီးကိုစားကြ
လော့ဟု၊ ဗာဗုလုန်မြို့၌ ရှိသော ငါတို့ကို မှာ
၂၉ လိုက် ပါပြီ တကား ဟု၊– ရှေမာယ ပေးလိုက်
သောစာကိုယဇ်ပုရောဟိတ်ဇေဖနိသည်ပရော
၃၀-၃၂ ဖက်ယေရမိရှေ့မှာဖတ်လေ၏။– ထိုအခါ နေ
ဟေလံရွာသား ရှေမာယ ကို ရည်မှတ်၍၊ ထာ
ဝရဘုရား မိန့်တော်မူသည်ကား၊ ငါမစေ လွှတ်
ဘဲရှေမာယသည်သင်တို့အားပရောဖက်ပြု၍ မု
သာ၌ မှီဝဲစေသောကြောင့်၊ ထာဝရဘုရားမိန့်
တော်မူသည်ကား၊ နေဟေလံရွာသားရှေမာယ
နှင့်သူ၏အမျိုးကိုငါသည်ဒဏ်ပေးမည်။ ဤအ
မျိုးသားတို့တွင်၊သူ၏လူတယောက်မျှနေရသော
အခွင့် မရှိ ရ၊ ထာဝရဘုရား မိန့် တော် မူ သည်
ကား၊ သူ သည် ထာဝရဘုရား ကို ပုန် ကန် စေ
ခြင်းငှါ သွန်သင်သောကြောင့်၊ ငါ၏လူမျိုး၌ ငါ

ဖြူ ထတဲ့သော ကျေးရူးကို သူသည် မခြင်ရထုး ထိမ်းသွားခြင်းကို ခံရသောသူအပေါင်း ထို့ကို စာပေးလိုက်ရမဦ အကြောင်း၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည် ယေရမိသို့ ရောက်လာ၍ မှာထားတော်မူ၏။

၃၀

၁ ထာဝရဘုရား၏နှုတ်ကပတ်တော်သည် ယေ
၂ ရမိသို့ရောက်လာ၍၊–ဣသရေလအမျိုး၏ဘုရား သခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင် အား ငါပြော သမျှသော စကားထို့ကို ရေးထား
၃ လော့။–ထာဝရဘုရားမိန့်တော်မူသည်ကား၊ သ ့ထိမ်းသွားခြင်းကို ခံရသော ငါ၏လူ ဣသရေ လအမျိုးနှင့် ယုဒအမျိုးသားတို့ကို ငါဆောင်ခဲ့ရ သောအချိန် ကာလသည် ရောက်လိမ့်မည်။ သူ တို့ဘိုးဘေးတို့အား ငါပေးသော ပြည်သို့ ငါပြန် လာစေသဖြင့်၊ သူတို့သည် ပိုင်ရကြလိမ့်မည်ဟု မိန့်တော်မူ၏။
၄ ဣသရေလအမျိုးနှင့် ယုဒအမျိုးကိုရည်မှတ် ၍ ထာဝရဘုရား မိန့်တော် မူသော စကားဟူမူ
၅ ကား၊– ငါသည် ထိတ်လန့်ခြင်း စကားသံကို ကြားရ၏၊ ငြိမ်သက်ခြင်းမရှိ၊ ကြောက်ရွံ့ဖွယ်
၆ သော အကြောင်းသာရှိ၏။– ယောကျ်ားသည် သားဖွားတတ်သလော ဟု မေးမြန်း ကြည့်ရှု ကြလော့။ မိမ္မသည် သားဖွားခြင်းဝေဒနာကို ခံရသော အခါ၊ မိမိခါး၌ လက်တင်သကဲ့သို့ ယောကျ်ားတိုင်းပြု၍၊ ခပ်သိမ်းသောသူတို့သည် မျက်နှာ ဖျော့တော့လျက် ရှိကြသည်ကို၊ အဘယ်
၇ ကြောင့် ငါမြင်ရသနည်း။– အလိုလေ၊ ထိုနေ့ ရက်ကား မိုင်းညို့၏။ စရာမရှိ၊ ကြီးသော နေ့ရက် ဖြစ်၏၊ ယာကုပ် အမျိုး၌ အမှုရောက်သော နေ့ ရက်ဖြစ်၏။ သို့ရာတွင်၊ သူတို့သည် ကယ်တင်
၈ ခြင်းသို့ရောက်ကြလိမ့်မည်။– ကောင်းကင်ဗိုလ် ခြေအရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊ ထိုနေ့ရက်၌ သူတို့ထမ်းရသော ထမ်းပိုးကိုသူ တို့ လည်ပင်းမှ ငါချိုးပယ်မည်၊ သူတို့ကိုချည် နှောင်သောကြိုးများကို ငါဖြတ်မည်၊ တပါးအ မျိုးသားတို့သည်နောက်တဖန်သူတို့ကိုမစေစား
၉ ရကြ။– သူတို့သည် မိမိတို့ဘုရားသခင် ထာဝရ ဘုရား၏အမှုကိုငှင်၊သူတို့အဖို့ငါပေါ်ထွန်းစေ တော်သော ရှင်ဘုရင် ဒါဝိဒ်၏ အမှု ကို ငှင် ဆောင် ရွက်ရကြမည်။
၁၀ ထို့ကြောင့်၊ ထာဝရဘုရား မိန့်တော် မူသည်

ကား၊ ဆိုင်ကျွန်ယာကုပ်၊ မကြောက်နှင့်။ ဣသ ရေလ အမျိုး၊ စိတ် မပျက် နှင့်။ သင့်ကို ဝေး သောအရပ်မှ၎င်း၊ သင်၏အမျိုးသားတို့ကိုသိမ်း သွားရာ ပြည်မှ၎င်း ငါနှုတ်ယူ ဆောင်ခဲ့ သဖြင့်၊ ယာကုပ် အမျိုးသည် ပြန်လာ၍၊ ကြောက် ဖွယ် သောသူမရှိ၊ ငြိမ်ဝပ် ချမ်းသာစွာနေရလိမ့်မည်
၁၁ ဟုမိန့်တော်မူ၏။– တဖန်မိန့်တော်မူသည်ကား၊ သင့်ကိုကယ်တင်ခြင်းငှါ သင်နှင့်အတူ ငါရှိ၏။ ငါသည် သင့်ကိုငါကွဲပြားစေသော တိုင်းနိုင်ငံရှိ သမျှတို့ကိုဆုံးစေသော်လည်း၊သင့်ကိုမဆုံးစေ။ သို့ရာတွင်၊အပြစ်ကိုရှင်းရှင်းမလွှတ်ဘဲ၊အလျော်
၁၂ အတန် ဆုံးမ မည်။– ထာဝရဘုရား မိန့်တော်မူ သည်ကား၊ သင့်အနာသည်ပျောက်ခဲ၏၊ သင်ခံ
၁၃ ရသောဝေဒနာသည် ပြင်းလှ၏။– သင့်အနာကို စည်း ထုံးသောငှါ အဘယ် သူမျှ သင့် အမှု ကိုမ စောင့်။ အနာ ပျောက်စေ နိုင်သော ဆေးကို အ
၁၄ ထယ်သူမျှမကု။–သင်၏မိတ်ဆွေရှိသမျှတို့သည် သင့်ကိုမေ့လျော့၍ မပေးမရှာဘဲရှ ကြ၏။ သင့် အပြစ်သည်ကြီး၍၊ သင်ပြုသောဒုစရိုက်သည် များပြားသောကြောင့်၊ ရန်သူပေးတတ်သောအ နာနှင့် သင့်ကိုငါနာစေပြီ။ ကြမ်းတမ်းသောသူ
၁၅ ပေးတတ်သော ဒဏ်ကိုငါ ပေးပြီ။– သင်သည် အနာကိုခံရသဖြင့်ဖြစ်၍၊အဘယ်ကြောင့်ငိုကြွေး သနည်း၊သင်၏အပြစ်ကြီးသောကြောင့်၊သင်ခံ ရသောဝေဒနာသည်ပျောက်ခဲ၏၊သင်ပြုသောဒု စရိုက် များပြားသောကြောင့်၊ ဤသို့ ငါဆုံးမရ
၁၆ ၏။– သို့ရာတွင်၊ သင့်ကို ကိုက်စားသော သူ အ ပေါင်းတို့သည် ကိုက်စားခြင်း၊ သင်၏ရန်သူအ ပေါင်းတို့သည် သိမ်းသွား ခြင်း၊ သင့်ကိုလုယူ ဖျက်ဆီးသော သူအပေါင်းတို့သည် လုယူဖျက်
၁၇ ဆီးခြင်းကိုခံရကြမည်။–ထာဝရဘုရားမိန့်တော် မူသည်ကား၊ ဤတပါးသူက၊ သင်သည်နှင်ပစ် ခြင်းကို ခံရသော သူဟူ၍၎င်း၊ အဘယ် သူမျှ မ ကြည့်ရှုမပြုစုသော ဇိအုန်မြို့ဟူ၍၎င်း ခေါ်သော် လည်း၊ သင်၏အနာရောဂါများကိုငါပျောက်စေ ၍၊ကျန်းမာပကတိဖြစ်စေမည်။
၁၈ ထာဝရဘုရားမိန့်တော်မူသည်ကား၊ သိမ်း သွားခြင်းကိုခံရသော ယာကုပ်အမျိုးသားတို့၏ ထဲရှာများကို ငါ ဆောင်ခဲ့ဦးမည်။ သူတို့အိမ် ရာများ ကိုသနားဦးမည်။ မြို့သည်ထံ့ည်း၊မိမိတုန်းပေါ် မှာ တဖန် တည်လျက် ရှိလိမ့်မည်။ နန်းတော်၌
၁၉ ထဦး၊ရှေးထုံးစံအတိုင်းနေကြလိမ့်မည်။–ထိုသူ

ထိုအထဲက ကျေးဇူးကို ချီးမွမ်းခြင်းအသံ၊ ရွှင်
မြူးသောသူတို့၏အသံသည် ထွက်လိမ့်မည်၊ ငါ
သည်သူတို့ကိုမနည်းစေဘဲများပြားစေမည်၊ နှိမ့်
ချခြင်းသို့မရောက်၊ ချီးမြှောက်ခြင်းသို့ရောက်စေ
၂၀ မည်အကြောင်း၊ စီရင်မည်၊-အမျိုးသားတို့သည်
အရင်ကဲ့သို့ဖြစ်၍၊ ပရိသတ်တို့သည် ငါ့ရှေ့မှာ
တည်ကြလိမ့်မည်၊ ညှဉ်းဆဲသောသူအပေါင်း
၂၁ တို့ကို ငါသည် အပြစ်ပေးမည်၊- သူတို့၏ မင်း
သည်သူတို့အမျိုးဖြစ်လိမ့်မည်၊ သူတို့အထဲက
ပေါ်ထွန်းသောသူသည် သူတို့ကိုအုပ်စိုးရလိမ့်
မည်၊ငါသွေးဆောင်၍သူတို့သည်ငါ့ထံသို့ချဉ်း
ကပ်ကြလိမ့်မည်၊ ငါ့ထံသို့ချဉ်းကပ်လိုသောငှါ၊
အဘယ်သူသည် မိမိစိတ်ကိုတန်းစေသနည်း။-
၂၂ ထိုအခါ သင်တို့သည် ငါ၏လူ ဖြစ်၍၊ ငါသည်
လည်း သင်တို့၏ ဘုရားသခင် ဖြစ်မည်ဟု၊ ထာ
၂၃ ဝရဘုရားမိန့်တော်မူ၏။- ထာဝရဘုရား၏ ဒေ
ါသတော်သည်ပူသောအမှိုင်းနှင့်ထွက်၏၊ ပြင်း
စွာသော လေဘွေ ဖြစ်၍၊ မတရားသော သူတို့
၂၄ ခေါင်းပေါ်မှာပြင်းစွာတိုက်လိမ့်မည်။-ထာဝရ
ဘုရားသည်ထက်စသတ်၍၊အကြံအစည်တော်
ကို ပြည့်စုံစေတော်မမူမှီ၊ ပြင်းစွာသော အမျက်
တော်မငြိမ်းရ။-နောင်ကာလ၌သင်တို့သည်နား
လည်ကြလိမ့်မည်၊

၃၁

၁ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုကာ
လ၌ ငါသည် ဣသရေလအဆွေအမျိုးအပေါင်း
တို့၏ဘုရားသခင်ဖြစ်၍၊ သူတို့သည်ငါ၏လူဖြစ်
၂ ကြလိမ့်မည်။- တဖန် မိန့်တော် မူသည် ကား၊
ထားဘေး နှင့် လွတ်သော သူတို့ သည် တော၌
ကျေးဇူးကို ခံရကြပြီ၊ ငါသည် ကြွသွား၍ဣသ
၃ ရေလ အမျိုးကို ငြိမ်းသာ ပေးမည်။- ထာဝရ
ဘုရားသည် အဝေးက ထင်ရှား၍ မိန့် တော်မူ
သည်ကား၊ အကယ် စင်စစ် ထာဝရ မေတ္တာ နှင့်
သင့်ကိုငါချစ်၏၊ ထိုကြောင့်၊ကရုဏာကျေးဇူး
၄ ကိုသင်၌ကြာမြင့်စွာပြ၏။- အိုဣသရေလသတို့
သမီးကညာ၊သင့်ကိုတဖန်ငါတည်ဆောက်သော
ကြောင့်၊သင်သည်တည်ဆောက်ခြင်းသို့ရောက်
လိမ့်မည်၊ သင်သည်တဖန်ပတ်သာနှင့်တန်ဆာ
ဆင်လျက်၊ ရွှင်မြူးခြင်းကိုပြုသောသူတို့နှင့်အတူ
၅ ထွက်သွားလိမ့်မည်။-ရှမာရိတောင်ပေါ်
မှာစပျစ်ဥယျာဉ်ကိုတဖန်စိုက်လိမ့်မည်၊ဥယျာဉ်
စိုက် သော သူတို့ သည် စိုက်ပျိုး၍၊ အသီး ကို
၆ ကိုယ်အလို အလျောက် စားရကြလိမ့်မည်။- ဧ
ဖရိမ်တောင်ပေါ် မှာ ကင်းစောင့် တို့က၊ ထကြ
လော့၊ ငါတို့ဘုရားသခင်ထာဝရဘုရားရှိတော်
မူရာဇိအုန်တောင်သို့ သွားကြကုန်အံ့ဟု၊ ကြွေး
ကြော် ရသော အမှိန် ကာလ သည် ရောက်လိမ့်
၇ မည်။- ထာဝရဘုရားမိန့် တော် မူသည် ကား၊
ယာကုပ်အမျိုးအဘို့ ရွှင်လန်းစွာသီခြင်း ဆိုကြ
လော့။ လူမျိုးတို့ ၏ အထွဋ် ၌ ကြွေးကြော် ကြ
လော့၊ အိုထာဝရဘုရား၊ ကိုယ်တော် ၏ လူမျိုး
တည်း ဟူသော၊ ကျန် ကြွင်းသော ဣသရေလ
အမျိုးသားကို ကယ်တင်တော်မူပြီဟု၊ မြွက်ဆို
လျက်သီတင်းကြားလိုက်၍ ချီးမွမ်းကြလော့။-
၈ သူတို့ကို မြောက်ပြည်မှ ငါဆောင်ခဲ့၍၊ မြေကြီး
စွန်းမှစုသိမ်းမည်၊ မျက်စိကန်းသောသူ၊ခြေဆွံ့
သောသူ၊ ကိုယ်ဝန်ဆောင်သောမိန်းမ၊ သားဖွား
ခြင်းဝေဒနာကိုခံရသောမိန်းမများလည်းပါလျက်၊
ကြီးစွာ သော အစည်း အဝေး တို့သည် ပြန်လာ
၉ ကြလိမ့်မည်။- ငိုကြွေးလျက် လာကြလိမ့်မည်၊
ဆုတောင်းပဌနာပြုလျက်ရှိသောထိုသူတို့ကိုငါ
ပို့ဆောင်မည်၊ မြစ်နားမှာ ရှောက်သော ထမ်း
ထိမိ၍ မလဲရသော ထမ်းဖြောင့် ထို၌ ငါသွေး
ဆောင်မည်၊ အကြောင်းမူကား၊ ငါသည်ဣသ
ရေလအမျိုး၏ အဘဖြစ်၏၊ ဧဖရိမ်အမျိုးသည်
ငါ၏သားဦးဖြစ်၏၊
၁၀ အိုလူမျိုးတို့၊ ထာဝရဘုရား၏အမိန့်တော်ကို
နားထောင်ကြလော့၊ ဝေးသော အရပ်ရပ်တို့၌
ကြွေးကြော်၍၊ ဣသရေလ အမျိုးသားတို့ကိုအ
ရပ်ရပ်သို့ကွဲပြားစေသောသူသည်တဖန်စုသိမ်း
ပြီးလျှင်၊သိုးထိန်းသည်မိမိသိုးစုကိုစောင့်ထတ်
သကဲ့သို့ စောင့် တော် မူမည်ဟု ကြားပြောကြ
၁၁ လော့။- အကြောင်းမူကား၊ထာဝရဘုရားသည်
ယာကုပ်အမျိုးကိုရွေးနှုတ်တော်မူပြီ၊ သူထက်
အားကြီးသောသူ၏ လက်မှကယ်လွှတ်တော် မူ
၁၂ ပြီ။-ထိုကြောင့်၊အမျိုးသားတို့သည်လာ၍၊ဇိအုန်
တောင် ထိပ်၌ သီခြင်း ဆိုကြ လိမ့်မည်၊ ထာဝရ
ဘုရား ပြုတော် မူခြင်း ကျေးဇူး တည်း ဟူသော
ဆန် စပါး၊ စပျစ်ရည်၊ ဆီ၊ သိုးသငယ်၊ နွားသ
ငယ်တို့ကိုရအံ့သောငှါ စည်းဝေးကြလိမ့်မည်၊
သူတို့စိတ်ဝိညာဉ်သည်ရေလောင်းသောဥယျာဉ်
ကဲ့သို့ဖြစ်၍၊ နောက်တဖန် ညှိုးငယ်ခြင်းမရှိရ။-
၁၃ ထိုအခါ သတို့သမီးကညာသည်ကခုန်လျက်၊ လူပျို၊ လူ
အိုတို့နှင့်အတူ ရွှင်မြူးလိမ့်မည်၊ သူတို့ညည်း

တွားခြင်း၊အရာ၌ ဝမ်းမြောက်ခြင်း၊ကို ငါဖြစ်စေ
မည်၊ သူတို့ သည် ဝမ်း နည်း ခြင်း ကို ခံရသော
နောက်၊ စိတ် သက် သာ ၍ ရွှင် လန်း မည် အ
၁၄ ကြောင်း၊ကိုငါပြုမည်၊– ယဇ်ပုရောဟိတ်တို့ကို
ဆီ၊ဆူဖြိုး၊သောအဆီသား၊နှင့်ဝစွာကျွေးမည်၊
ငါ၏လူတို့သည်ထည်း၊ကျေး၊ဇူး၊နှင့်ဝပြောကြ
လိမ့် မည်ဟု၊ထာဝရဘုရား၊မိန့်တော်မူ၏။
၁၅ ထာဝရဘုရား၊ မိန့်တော်မူသည်ကား၊ ရာမအ
ရပ်၌ သည်း၊စွာသော ညည်း၊ တွား၊ ငိုကြွေး၊ခြင်း၊
အသံကိုကြား၊ရ၏၊ ရာခေလသည် မိမိသား၊တို့မ
၁၆ ရှိ သော့ကြောင့်၊ ငို၍ စိတ်မပြေ နိုင်၊– ထာဝရ
ဘုရား၊မိန့်တော် မူသည်ကား၊ သင်သည်ငိုကြွေး
သံကို ချုပ်ထော့၊ မျက်ရည် မကျ စေ နှင့်၊ သင်
သည်ကိုယ်ကျင့်သော အကျင့်၏ အကျိုး၊ကိုခံရ
လိမ့်မည်၊သင်၏သား၊တို့သည်ရန်သူပြည်မှပြန်
၁၇ လာကြလိမ့်မည်၊–သင်၏အဆုံး၌မျှော်လင့်စရာ
အကြောင်း၊ရှိ၏၊သင်၏သား၊တို့သည်နေရင်း၊ပြည်
သို့ပြန်လာ ကြလိမ့်မည်ဟု၊ ထာဝရဘုရား၊ မိန့်
တော်မူ၏။
၁၈ ဧဖရိမ်က၊ ကိုယ်တော်သည်အကျွန်ုပ်ကိုဆုံးမ
တော်မူပြီ၊ အကျွန်ုပ်သည် ယဉ်၊သော နွား၊လား၊
ကဲ့သို့ ဆုံးမ ခြင်း၊ကို ခံရပါပြီ၊ အကျွန်ုပ်ကို သွေး
ဆောင်တော်မူပါ၊ သို့ပြုလျှင်၊ အကျွန်ုပ်သည်ပြန်
လာပါမည်၊ အိုထာဝရဘုရား၊ ကိုယ်တော်သည်
၁၉ အကျွန်ုပ်၏ဘုရား၊သခင်ဖြစ်တော်မူ၏၊–ပြန်လာ
သောနောက်၊အကျွန်ုပ်သည်အမှန်နောင်တရပါ
၏၊ ဆုံးမတော် မူခြင်း၊ ကို ခံရသော နောက်၊ အ
ကျွန်ုပ်သည်ကိုယ်ပေါင်ကို ရိုက်ပါ၏၊ အသက်
ငယ်စဉ်ပြုမိသောအပြစ်ကြောင့် အသရေပျက်
ခြင်း၊ ကို ခံရ သဖြင့်၊ ရှက် ကြောက်၍ မိုင် တွေ
လျက် ရှိပါ၏ဟု၊ ကိုယ်ကို အပြစ် တင်၍ မြည်
တမ်း၊သောစကား၊ကိုငါသည်ဆက်ဆက်ကြား၊ရ
၂၀ ပြီ၊–ဧဖရိမ်သည်ငါ၏ချစ်သား၊ဖြစ်သလော၊ချစ်
ဖွယ်သောသူငယ်ဖြစ်သလော၊ သူ၏အကြောင်း၊
ကို ငါပြော လေ ရာရာ၌ ငါ သည် အလွန် တရာ
အောင်း၊မေ့လျက်နေ၏၊ထိုကြောင့်၊ငါသည် သူ့အ
တွက်စိတ်ကြွင်နာခြင်း၊ရှိ၏၊အကယ်စင်စစ်သူကို
ငါကယ်မသနား၊မည်ဟု၊ထာဝရဘုရား၊မိန့်တော်
၂၁ မူ၏၊– လမ်း၌မှတ်တိုင်တို့ကိုစိုက်လော့၊ အထိ
တိုင်တို့ကိုထူလော့၊ လိုက်သွား၊သောလမ်း၊မကို
စိတ်စွဲလမ်း၊လော့၊ အို ဣသရေလ သတို့သမီး၊ က
ညာ၊ပြန်လာလော့၊သင်၏နေရာ ဤမြို့များ၊သို့ပြန်
၂၂ လာလော့၊– အိုဖောက်ပြန်သောသတို့သမီး၊သင်
သည် အဘယ်မျှ ကာလပတ်လုံး လှည့် လည်၍
နေလိမ့်မည်နည်း၊ ထာဝရဘုရား၊သည် မြေကြီး
ပေါ်မှာ ထူး၊ဆန်း၊ သော အမှုကို စီရင်တော်မူ၍၊
၂၃ မိန်းမသည်ယောကျ်ား၊ကို ပတ်ပိုင်း၊လိမ့်မည်၊– ဣ
သရေလအမျိုး၏ဘုရား၊သခင်၊ကောင်း၊ကင်မိုလ်
ခြေအရှင် ထာဝရဘုရား၊ မိန့်တော်မူသည်ကား၊
သိမ်း၊သွား၊ခြင်း၊ကိုခံရသောသူတို့ကို ငါဆောင်ခဲ့
ပြန်သောအခါ၊ ယုဒပြည် ၏ မြို့ရွာတို့၌ နေသော
သူတို့က၊ အိုဖြောင့်မတ်ခြင်း၊နေရာအရပ်၊ အိုသန့်
ရှင်း၊ခြင်း၊နေရာတောင်၊ ထာဝရဘုရား၊သည်သင့်
ကိုကောင်း၊ကြီး၊ပေး၊တော်မူစေသတည်း၊ဟူသော
၂၄ စကား၊ကို တဖန်သုံး၊ကြ လိမ့်မည်၊– ထိုအရပ်၌
ယုဒပြည်သူ၊ ယုဒ မြို့ရွာသား၊ အပေါင်း၊တို့သည်၊
လယ်လုပ်သောသူနှင့် သိုး၊ထိန်း၊သောသူများ၊ပါ
၂၅ လျက်၊ အတူနေရကြလိမ့်မည်၊– ငတ်မွတ်သော
သူ အပေါင်း၊တို့ကို ငါကျွေး၊မွေး၊မည်၊ ညှိုး၊ငယ်
သောသူ အပေါင်း၊တို့ကို ငါသက်သာ စေမည်ဟု
၂၆ မိန့်တော်မူ၏၊– ထိုနောက်၊ ငါသည်နိုး၍ ကြည့်
ရှုသောအခါ၊ အိပ် ပျော်ခြင်း၊ အား၊ဖြင့် အား၊ရ
လျက်ရှိ၏။
၂၇ ထာဝရ ဘုရား၊ မိန့် တော် မူ သည် ကား၊ ငါ
သည် ဣသရေလပြည်၊ ယုဒပြည်၌လူမျိုး၊စေ့နှင့်
တိရိစ္ဆာန် မျိုး၊စေ့ကို ကြဲ ရ သော အ ချိန် ကာလ
၂၈ ရောက်လိမ့်မည်၊–ငါသည်သူတို့ကိုနှုတ်ပယ်ဖြို
ချ မှောက်လှန် ဖျက်ဆီး ညှဉ်း၊ဆဲခြင်း၊အမှုကိုပြု
ဘူး၊သည်နည်း၊တူ၊ တဖန်တည်ဆောက်စိုက်ပျိုး၊
၂၉ ခြင်း၊အမှုကိုပြုဦး၊မည်ဟုမိန့်တော်မူ၏၊– ထိုကာ
လ၌ အဘသည်ချဉ်သော စပျစ်သီး၊ကို စား၊သော့
ကြောင့်၊ သား၊သည်သွား၊ကြိန်း၊ခြင်း၊ကိုခံရ၏ဟု
၃၀ မဆိုရကြ၊– လူတိုင်း၊မိမိအပြစ်ကြောင့် မိမိသေရ
မည်၊ ချဉ်သောစပျစ်သီး၊ကို စား၊သော သူတိုင်း၊
သွား၊ကြိန်း၊ခြင်း၊ကိုခံရမည်။
၃၁ ထာဝရဘုရား၊မိန့်တော်မူသည်ကား၊ ငါသည်
၃၂ ဤလူမျိုး၏ ဘိုး၊ဘေး၊တို့ကို လက်ဆွဲ၍ အဲဂုတ္တု
ပြည်မှ ဆောင်သွား၊ သောအခါ၊ သူတို့၌ငါပေး၊
သော ပဋိ ညာဉ် တ ရား၊ နှင့် ခြား၊ နား၊ သော ပဋိ
ညာဉ်တရား၊သစ်ကိုဣသရေလအမျိုး၊သား၊ ယုဒ
အမျိုး၊ သား၊ တို့ ၌ ငါ ပေး၊ သော အ ချိန် ကာ လ
ရောက်လိမ့်မည်၊ အရင်ငါပေး၊ဘူး၊သောပဋိညာဉ်
တရား၊ကိုသူတို့သည် ဖျက်၍၊ ငါသည်ထည်း၊သူ
၃၃ တို့ကို စွန့်ရှာ၏၊– နောင်ကာလအခါ ဣသရေလ

အမျိုးသားတို့၌ငါပေးအံ့သောပဋိညာဉ်တရား
ဟူမူကား၊ ငါထာဝရဘုရားသည် ငါ၏ ပညတ်
တရားကို သူတို့အတွင်းထဲသို့ သွင်းမည်။ သူတို့
နှစ်လုံးပေါ်မှာ ရေးထားမည်။ ငါသည် သူတို့၏
ဘုရားဖြစ်မည်။ သူတို့ သည်လည်း ငါ၏လူ ဖြစ်
၃၄ ကြလိမ့်မည်။– ထိုသူတို့က၊ထာဝရဘုရားကိုသိ
လော့ဟု၊အမျိုးသားချင်း၊ညီအစ်ကိုအချင်းချင်း
တယောက်ကို တယောက်ဆုံးမ ဩဝါဒ မပေးရ
ကြ။ အကြောင်းမူကား၊ အငယ်ဆုံး သောသူမှ
စ၍ အကြီး ဆုံးသော သူ တိုင်အောင်၊ ထိုသူ အ
ပေါင်းတို့သည်ငါ့ကိုသိကြလိမ့်မည်။ ထိုအခါငါ
သည်သူတို့အပြစ်များကိုသည်းခံမည်။ သူတို့ပြု
သောဒုစရိုက်များကို မအောင်းမေ့ဘဲနေမည်ဟု၊
၃၅ ထာဝရဘုရား မိန့်တော်မူ၏။– နေ့အချိန်၌လင်း
စရာဘို့ နေကို ခန့်ထား၍၊ ညည့် အချိန်၌ လင်း
စရာတို့လ နှင့်ကြယ်တို့ကိုစီရင်တော်မူထသော၊
သမုဒ္ဒရာကို ဆုမ္မ၍ လှိုင်းတံပိုးကိုဟုန်းစေတော်
မူထသော၊ ကောင်းကင် ဗိုလ်ခြေအရှင်ထာဝရ
ဘုရား ဟူသောဘွဲ့နာမ ရှိတော်မူသော ထာဝရ
၃၆ ဘုရားမိန့်တော်မူသည်ကား၊-ထိုတရားတို့သည်
ငါ့ရှေ့မှာ ကွယ်ပျောက်လျှင်၊ ဣသရေလ အမျိုး
သည် ငါ့ရှေ့မှာ အမျိုး တိမ်မြုပ်၍ အစဉ် ကွယ်
၃၇ ပျောက် လိမ့်မည်ဟု မိန့်တော် မူ၏။– တဖန်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ အထက်မိုဃ်း
ကောင်းကင်ကို တိုင်းထွာ နိုင်လျှင်၎င်၊ မြေကြီး
အောက်ဆုံးအမြစ်တို့ကို လိုက်၍ စစ် နိုင် လျှင်
၎င်၊ဣသရေလ အမျိုးသား အပေါင်းတို့ကိုသူတို့
ပြုမိသမျှသောအပြစ်တို့ကြောင့်၊ ငါစွန့်ပြစ်မည်
ဟုမိန့် တော်မူ၏။
၃၈ တဖန်ထာဝရဘုရား မိန့်တော် မူသည်ကား၊
ဟာနနေလ ရဲတိုက်မှစ၍ မြို့ထောင့် တံခါး တိုင်
အောင်၊ မြို့ တော်ကို ထာဝရဘုရား အဖို့ တည်
ထောင်ရသော အချိန်ကာလသည် ရောက်လိမ့်
၃၉ မည်။– ဂါရက် တောင်ကို လွန်၍ မျဉ်းကြိုး နှင့်
တန်းချလိမ့်မည်။ဂေါသတောင်ကိုလည်းဝိုင်းမိ
၄၀ လိမ့်မည်။– အရှေ့ထက် မြင်းတံခါး ရှိသော မြို့
ထောင့် တိုင် အောင်၊ အသေ ကောင် များ၊ ပြာ
များ စွန့်ပြစ်ရာ ချိုင့်တချောက်လုံးနှင့်၊ ကေဒြုန်
ချောင်းအတွင်းတွင်၊ လယ်ပြင် ရှိသမျှတို့သည်
ထာဝရ ဘုရား အ ဖို့ သန့် ရှင်း ကြ လိမ့် မည်။
နောက်တဖန် နှုတ်ပယ်ဖြိုဖျက်ခြင်း အလျှင်းမရှိရ
ဟုမိန့်တော်မူ၏။

၃၂

၁ နေဗုခဒ်နေဇာနန်းစံတဆယ်ရှစ်နှစ်၊ ယုဒရှင်
ဘုရင်ဇေဒကိနန်းစံဆယ်နှစ်တွင်၊ထာဝရဘုရား
ထံတော်မှ နှုတ် ကပတ် တော်သည် ယေရမိ သို့
၂ ရောက် လာ၏။– ထိုအခါ ဗာဗုလုန် ရှင် ဘုရင်၏
စစ်သူရဲ တို့သည် ယေရုရှလင်မြို့ကိုဝိုင်းထားကြ
ပြီ။ ပရောဖက်ယေရမိသည်ယုဒရှင်ဘုရင်၏နန်း
တော်ထောင်ဝင်းထဲမှာအချုပ်ခံလျက်နေရ၏။–
၃ အကြောင်းမူကား၊ ယုဒရှင်ဘုရင်ဇေဒကိသည်
ခေါ်၍၊ ထာဝရဘုရားက၊ ဤမြို့ကိုဗာဗုလုန်ရှင်
ဘုရင်လက်သို့ငါအပ်၍၊ သူသည်သိမ်းယူလိမ့်
၄ မည်။–ယုဒရှင်ဘုရင်ဇေဒကိသည် ခါလဒဲလူတို့
လက်နှင့်မလွတ်၊ ဗာဗုလုန်ရှင်ဘုရင် လက်သို့
ဆက်ဆက် ရောက်လိမ့်မည်။ မျက်နှာချင်းဆိုင်
၍စကားပြောလျက်၊ တယောက်ကိုတယောက်
၅ ကြည့်ရှုလျက် တွေ့ရ လိမ့် မည်။– ဇေဒကိ ကို
လည်းဗာဗုလုန်မြို့သို့ဆောင်သွားလိမ့်မည်။ ငါ
အကြည့်အရှု မလာမှီတိုင်အောင်၊ ထိုမြို့၌ နေရ
လိမ့်မည်။သင်တို့သည်ခါလဒဲလူတို့ကို စစ်တိုက်
၍ မနိုင်ရကြဟု၊ ထာဝရ ဘုရား မိန့် တော် မူ
ကြောင်းကို၊ သင်သည်အဘယ်ကြောင့် ပရော
ဖက်ပြု၍ ဟောသနည်းဟု ဆို၍၊ ထောင်ထဲမှာ
လှောင်ထားသတည်း။
၆ ထိုအခါ ယေရမိက၊ ငါ့ဆီသို့ ရောက်လာသော
ထာဝရဘုရား၏ နှုတ်ကပတ်တော်ဟူမူကား၊–
၇ သင်၏ဘထွေးရှလ္လုံသားဟာနမေလသည်သင့်
ထံသို့ လာ၍၊ အာနသုတ် မြို့မှာ ရှိသော ကျွန်ုပ်
လယ်ကို သင်သည် ရွေးပိုင်သောကြောင့်၊ ဝယ်
ပါဟုပြောဆိုလိမ့်မည် အကြောင်းကို၊ ထာဝရ
၈ ဘုရား မိန့်တော် မူသည်နှင့် အညီ၊– ငါ့ဘထွေး
သားဟာနမေလသည်ငါရှိရာ ထောင်ဝင်းထဲသို့
လာ၍၊ ဗယာမိန်ခရိုင်၊ အာနသုတ်မြို့၌ ရှိသော
ကျွန်ုပ်လယ်ကို ဝယ်ပါလော့။ သင်သည်အမွေ
ခံ ပိုင် သော အ ခွင့် နှင့် ရွေး ပိုင် သော အ ခွင့် ရှိ
သည်ဖြစ်၍၊ ကိုယ်အဖို့ဝယ်ပါဟု၊ ငါ့အားပြော
ဆို၏။ ထိုအခါထာဝရဘုရားစီရင်တော်မူသော
၉ အမှုဖြစ်ကြောင်း ကိုငါသိသောကြောင့်၊– အာန
သုတ် မြို့၌ရှိသော ငါ့ဘထွေးသား ဟာနမေလ၏
လယ်ကို ငါဝယ်၍ လယ်ဘိုးငွေ တဆယ် ခုနစ်
၁၀ ကျပ်ကိုချိန်ပေးလေ၏။– စာချုပ်ကိုလည်း စီရင်
၍တံဆိပ်ခတ်ပြီးမှ၊သက်သေတို့ကိုခေါ်၍ငွေကို
၁၁ ချိန်ခွင်နှင့် ချိန်ပေး၏။– ဓမ္မသတ် ထုံးစံအတိုင်း

ထံဆိပ်ခတ်သော စာချုပ် တစောင်နှင့် ဖွင့်ထား
၁၂ သော ထက်ခံတစောင်ကိုယူ၍၊- ထဖွေးသား
ထာနမေလ အစ ရှိသော၊ စာချုပ်၌ အမည်ပါ
သောသက်သေရှား၊ ထောင်ဝင်းထဲမှာ ထိုင်နေ
သော ယုဒလူရှား အပေါင်းတို့ရှေ့တွင်၊ မာသေ
ထ ထားဖြစ်သော နေရိ၏သား ဗာရုတ်၌ အပ်
၁၃ လျှက်၊-ဣသရေလအမျိုး၏ဘုရားသခင်၊ ကောင်း
ကင် ဗိုလ်ခြေအရှင် ထာဝရ ဘုရား မိန့်တော် မူ
၁၄ သည် ကား၊- တံဆိပ် ခတ်သော ဤ စာချုပ် တ
စောင်နှင့် ဖွင့်ထား သောဤလက်ခံ တစောင်ကို
ယူ၍၊ကာလကြာမြင့်စွာတည်နေစေခြင်းငှါမြေ
၁၅ အိုး၌ ထားလော့။- ဣသရေလ အမျိုး၏ ဘုရား
သခင်၊ ကောင်း ကင် ဗိုလ် ခြေ အ ရှင် ထာဝရ
ဘုရား၊ မိန့်တော် မူသည်ကား၊ ဤ ပြည် ၌ အိမ်၊
ထယ်ယာ၊ စပျစ်ဥယည်တို့ကို ပိုင်ရကြသေဦး
မည်ဟု မိန့်တော်မူကြောင်းကို ပြန်ပြောသဖြင့်၊
ထိုသူတို့ရှေ့မှာဗာရုတ်ကိုမှာထားလေ၏။
၁၆ ထိုသို့နေရိသား ဗာရုတ်၌ စာချုပ်ကိုအပ်ပြီး
မှ၊ထာဝရဘုရားအား ငါဆုတောင်းသောပဌနာ
၁၇ စကား ဟူ မူ ကား၊- အို အရှင် ထာဝရ ဘုရား၊
ကိုယ် တော် သည် မဟာ တန် ခိုး နှင့် ထက် ရုံး
တော်ကိုဆန့်၍၊ ကောင်းကင်နှင့်မြေကြီးကိုဖန်
ဆင်းတော်မူပြီ၊ကိုယ်တော်မတတ်နိုင်သောအ
၁၈ ရာ တစုံတခုမျှမရှိပါ။- ကိုယ်တော်သည် ထောင်
ထောင် အသောင်းတို့အား ကရုဏာ ကျေးဇူးပြု
လျှက်၊အဘတို့၏အပြစ်ကိုနောက်ဖြစ်သောသား
တို့၏ခေါင်းပေါ်သို့သက်ရောက်စေတော်မူ၏၊အ
ဖွန် ကြီး မြတ်သောဘုရား၊ မဟာတန်ခိုးတော်
နှင့်ပြည့်စုံသောဘုရားဖြစ်၍၊ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားဟူသောဘွဲ့နာမရှိတော်
၁၉ မူ၏။- ထူးဆန်းသော အကြံကိုကြံ၍၊ ထူးဆန်း
သော အမှုကို စီရင်တော် မူလျှက်၊ လူ အသီးအ
သီးတို့ကျင့်ကြံပြုမူသည်အတိုင်း အကျိုးအပြစ်
ကို ပေးခြင်း ငှါ၊ လူ သားများ သွား လာ သော
လမ်း အလုံးစုံတို့ကို အစဉ်ကြည့်ရှုလျက် နေ
၂၀ တော်မူ၏၊-အဲဂုတ္တုပြည်၊ ဣသရေလပြည်အစ
ရှိသော လူ အမျိုးမျိုးတို့၌ နိမိတ် လက္ခဏာ ထူး
ဆန်းသောအမှုတို့ကို ယနေ့တိုင်အောင်ပြတော်
မူသဖြင့်၊ ယခုကဲ့သို့ အစဉ်ကျော်စောသော သိ
၂၁ တင်း ရှိတော် မူ၏၊- နိမိတ် လက္ခဏာ ထူး ဆန်း
သောအမှုတို့ကိုပြလျှက်၊ အားကြီးသောလက်၊
ဆန့် တော် မူ သော လက် ရုံး၊ အသွန် ကြောက်
မက် ဖွယ်သော အခြင်း အရာနှင့် တကွ၊ ကိုယ်
တော်၏ ဣသရေလလူတို့ကို အဲဂုတ္တုပြည်မှနှုတ်
၂၂ ဆောင်တော်မူ၍၊- ငါပေးမည်ဟု ထိုးသေအဘို့
အားကျိန်ဆိုတော်မူသောပြည်တည်းဟူသော
နို့နှင့် ပျားရည် စီး သော ဤပြည်ကို ပေး သနား
၂၃ တော် မူသဖြင့်၊- သူတို့သည်ဝင်၍ အမွေခံ
သော် လည်း၊ အ မိန့် တော် ကို နား မ ထောင်၊
တရားတော်လမ်းသို့ မလိုက်၊ မှာ ထား တော်မူ
သော အကျင့် တ စုံ တ ခုကိုမျှ မကျင့်ဘဲ နေသော
ကြောင့်၊ ယခု ခံရသမျှသော ဘေးဥပါဒ်တို့ကို
၂၄ သူတို့အပေါ်သို့ရောက်စေတော်မူပြီ။- မြို့ရိုးမြေ
ရိုးတို့ကို ကြည့်ရှုတော်မူပါ။ မြို့တော်ကို ထိုက်
ယူခြင်းငှါရောက်ကြပါပြီ။ထားဘေး၊ငတ်မွတ်
ခြင်းဘေး၊ ကာလနာ ဘေး တို့ဖြင့် ထိုက် သော
ခါလဒဲလူတို့လက်သို့မြို့တော်ကိုအပ်တော်မူပြီ။
မိန့် တော် မူ သော စကား ပြည့် စုံ ကြောင်းကို
၂၅ ထည်း၊ ကိုယ်တော်တိုင်မြင်တော်မူ၏၊-ထိုသို့မြို့
တော်သည် ခါလဒဲ လူတို့ လက်သို့ ရောက်သော်
လည်း၊ အိုအရှင်ထာဝရဘုရား၊ ထိုလယ်ကိုငွေ
နှင့်ဝယ်၍၊ သက်သေတို့ကိုခေါ်ထားရမည်အ
ကြောင်း၊ မိန့်တော်မူပါပြီ ဟကားဟု လျှောက်
လေ၏။
၂၆ ထိုအခါ ထာဝရဘုရား၏နှုတ်ကပတ် တော်
၂၇ သည် ယေရမိသို့ ရောက်လာ သည်ကား၊- ငါ
ထာဝရဘုရားသည် ခပ်သိမ်းသောသတ္တဝါတို့
ကို အစိုးရသော ဘုရားသခင်ဖြစ်၏။ ငါမတတ်
၂၈ နိုင်သောအရာတစုံတခု ရှိလိမ့်မည်လော။- ထို့
ကြောင့်၊ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဤ
မြို့ကို ခါလဒဲ လူတို့ လက်သို့၎င်း၊ ဗာဗုလုန် ရှင်
ဘုရင် နေဗုခဒ်နေဇာ လက်သို့၎င်းငါအပ်၍၊ သူ
၂၉ သည် သိမ်းယူလိမ့်မည်။- ဤမြို့ကို ထိုက်သော
ခါလဒဲလူတို့သည်ဝင်၍မီးရှို့ကြလိမ့်မည်။ ငါ့အ
မျက်ကို နှိုးဆော်ခြင်းငှါ ဗာလဘုရားအဘို့အိမ်
မိုးပေါ်မှာနံ့သာပေါင်းကိုမီးရှို့၍၊အခြားသောပါး
သော ဘုရားတို့အဘို့ သွန်းလောင်းရာ ပူဇော်သ
ကာကိုပြုရာ အိမ်များနှင့်တကွ၊ တမြို့လုံးကို မီး
၃၀ လောင်စေကြလိမ့်မည်။- အကြောင်းမူကား၊ ဣ
သရေလ အမျိုးသားတို့နှင့် ယုဒ အမျိုးသားတို့
သည်၊ ငယ်သော အရွယ်မှစ၍ရှေ့မှာဒုစရိုက်
ကိုသာ ပြုကြပြီ၊ မိမိတို့ပြုလေရာရာ၌ ငါ့အမျက်
၃၁ ကိုနှိုးဆော်ခြင်းငှါသာပြုကြပြီ။- ဣသရေလအ
၃၂ မျိုးနှင့် ယုဒအမျိုး၏ ရှင်ဘုရင်မှူးမတ်၊ ယဇ်ပု

ရောဟိတ်၊ ပရောဇက်၊ ထုံးဖြည်သူ၊ ယေရုရှလင်
မြို့သားတို့သည် ငါ့အမျက်ကို နှိုးဆော်ခြင်းငှါ ပြု
သောအမှုသော ဒုစရိုက်ကြောင့်၊ ဤမြို့ကို ငါ့ထံမှ
ငါပယ်ရှားမည်အကြောင်း၊ မြို့တည်သောနေ့မှ
စ၍ ယနေ့ တိုင်အောင်၊ ငါ့အမျက် ထွက်၍၊ အ
၃၃ မျက်အရှိန် အားကြီးစေသော မြို့ဖြစ်၏။- သူတို့
သည်ငါ့ကို မျက်နှာ မပြုဘဲ ကျောခိုင်းကြပြီ၊ ငါ
သည် စောစောထ၍ အထပ်ထပ် ဆုံးမသွန်သင်
သော်လည်း၊ ငါ၏ဆုံးမခြင်းကိုခံလိုသောငှါ နားမ
၃၄ ထောင်ကြ။- ငါ၏နာမဖြင့်သမုတ်သောဗိမာန်
ကိုညစ်ညူးစေခြင်းငှါ၊ စက်ဆုပ်ရွံရှာဖွယ်သော
၃၅ အရာတို့ကို သွင်းထားကြပြီ တကား။- သူတို့
သားသမီးတို့ကို မောလုပ်ဘုရားအားပူဇော်ခြင်း
ငှါ၊ ဟိန္နုံသား၏ ချိုင့်၌ရှိသော ဗာလဘုရား၏
ကုန်းတို့ကိုတည်လုပ်ကြပြီ၊ ယုဒအမျိုးအပေါ်
သို့ အပြစ်ရောက်စေခြင်းငှါ၊ ထိုမျှသောစက်
ဆုပ်ရွံရှာဖွယ်သောအမှုကို ငါမမှာထား၊ ငါ၏အ
လျှင်းအလိုမရှိဘဲပြုကြပြီဟု၊ ထာဝရဘုရားမိန့်
တော်မူ၏။
၃၆ ဤသို့ရာတွင်၊ ထားအား၊ ရွတ်သိပ်ခြင်း အား၊
ကာလနာ အား အား ဖြင့် ဗာဗုလုန် ရှင်ဘုရင်
လက်သို့ရောက်မည်ဟု၊ သင်တို့ ဆိုတတ် သော
ဤမြို့ကိုရည်မှတ်၍၊ ဣသရေလအမျိုး၏ ဘုရား
၃၇ သခင်ထာဝရဘုရားမိန့်တော်မူသည်ကား။- ငါ
သည်ငါ့အမျက်ယုန်းယုန်းထွက်၍၊ အမျက်အရှိန်
အားကြီးသည်နှင့်၊ သူတို့ကို နှင်ထုတ်ရာ တိုင်း
ပြည်ရှိသမျှတို့မှ၊ တဖန်စုသိမ်း၍ ဤ အရပ်သို့
၃၈ ဆောင်ခဲ့ပြီးလျှင်၊ ငြိမ်ဝပ် စွာနေစေမည်။- သူတို့
သည်ငါ၏လူဖြစ်ကြလိမ့်မည်၊ ငါသည်လည်း၊
၃၉ သူတို့၏ဘုရားသခင်ဖြစ်မည်။ ကိုယ်အကျိုး၊ အ
ထိုငှါ၎င်း၊ နောက်ဖြစ်လတ္တံ့သော သားသမီးတို့၏
အကျိုးအလိုငှါ၎င်း၊ ငါ့ကိုအစဉ်ကြောက်ရွံ့စေ
ခြင်းငှါ၊ တညီတညွတ်တည်းကျင့်ကြံနိုင်သော
၄၀ သဘောကို ငါပေးမည်။- သူတို့ကို မစွန့်ပြစ်ဘဲ
အစဉ်ကျေးဇူးပြုခြင်းငှါ၊ သူတို့၌ ထာဝရပဋိ
ညာဉ်ကိုငါထားမည်၊ သူတို့သည်လည်း၊ ငါ့ထံ
မှမထွက်မသွားမည်အကြောင်း၊ ငါ့ကိုကြောက်
၄၁ ရွံ့သောသဘောနှင့်ပြည့်စုံစေမည်။-သူတို့အား
ကျေးဇူး ပြုခြင်း အမှု၌၊ ငါသည် အားရ ဝမ်း
မြောက်၍၊ ငါ့စိတ်နှစ်လုံးနှင့် နှမြည်သည်အကြွင်းမဲ့
ဟိတ်လျက်၊ သူတို့ကိုဤပြည်၌ ဆက်ဆက်နေရာချ
၄၂ မည်။- ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဤ
လူမျိုးအပေါ်မှာကြီးစွာသောဤဘေးဥပါဒ်အ
ပေါင်းကိုရောက်စေသည်နည်းတူ၊ ငါဂတိထား
သောကောင်းကျိုးအပေါင်းကိုထဦး၊ ငါရောက်
၄၃ စေမည်။- လူမရှိ၊ တိရိစ္ဆာန်မရှိ၊ ဆိတ်ညံ့ပြီ၊ ခါ
လဒဲလူတို့လက်သို့ ရောက်လေပြီဟု၊ သင်တို့ဆို
တတ်သောဤပြည်၌၊ နောက်တဖန်လယ်ယာတို့
၄၄ ကိုရောင်းဝယ်ကြလိမ့်မည်။- ဗယာမိန်ပြည်၌
၎င်း၊ ယေရုရှလင်မြို့ ပတ်ဝန်းကျင် အရပ်တို့၌
၎င်း၊ ယုဒပြည်တွင် ရှိသောမြို့တို့၌ ၎င်း၊ တောင်
ပေါ်မြို့၊ ချိုင့်ထဲမြို့၊ တောင်ထက်မြို့တို့၌၎င်း၊ လူ
တို့သည် လယ်ယာတို့ကို ငွေနှင့် ဝယ် ခြင်း၊ စာ
ချုပ်ကို မှီရင်ခြင်း၊ တံဆိပ်ခတ်ခြင်း၊ သက်သေ
တို့ကိုခေါ်ထားခြင်း အမှုများကို ပြုမိပြုကြလိမ့်
မည်။ အကြောင်းမူကား၊ သိမ်းသွားခြင်းကိုခံရ
သော သူတို့ကို တ ဖန် ငါ ဆောင် ခဲ့ ဦး မည် ဟု၊
ထာဝရဘုရားမိန့်တော်မူ၏။

၃၃

၁ ယေရမိသည် ထောင် ဝင်း ထဲ မှာ အ ချုပ်ခံ
လျက်နေရသောအခါ၊ ထာဝရဘုရား၏ နှုတ်က
ပတ်တော်သည် ဒုတိယအကြိမ် ရောက်လာ၍။-
၂ ဤအမှုကို ပြုသောဘုရား၊ ဤအမှုကို ဖန်ဆင်းမြဲ
ရင်သော ဘုရား၊ ယေ ဟောဝါ အမည် ရှိသော
၃ ထာဝရဘုရားမိန့်တော်မူသည်ကား၊-ငါ့ကိုခေါ်
လော့၊ ငါထူးမည်၊ ကြီးသောအရာ၊ သင်မသိနိုင်
၄ အောင်နက်နဲသောအရာတို့ကိုငါပြမည်။-ပြအိုး
မြေရိုးဖြင့်၎င်း၊ ထားဖြင့်၎င်းဖြိုဖျက်သောဤမြို့၏
အိမ် များ၊ ယုဒရှင်ဘုရင်၏ ဘုံ ဗိမာန် များ ကို
ရည် မှတ် ၍၊ ဣသရေလ အမျိုး၏ဘုရားသခင်၊
၅ ထာဝရဘုရား မိန့်တော် မူသည်ကား၊- ခါလဒဲ
လူ တို့သည် စစ်တိုက်ခြင်းငှါလာကြ၏၊ ငါသည်
ပြင်းစွာ အမျက်ထွက် ၍ ကွပ်မျက် သော သူတို့
၏ အသေကောင် များ နှင့် ထိုအိမ် များကို ပြည့်
စေခြင်းငှါ လာကြ၏၊ ထိုသူတို့၏ ဒုစရိုက် များ
၆ ကြောင့်၊ ဤမြို့မှ ငါသည် မျက်နှာကိုလွှဲပြီ။- ထို
ရာတွင်၊ ငါ သည် ဤ မြို့ ၏ အ နာ ကို ဆေး ကု၍
ပျောက်စေမည်၊ မြို့သား တို့သည် ကျန်းမာမည်
အကြောင်း၊ ငြိမ်သော စည်းစိမ်ချမ်းသာနှင့်ပြည့်
၇ စုံမည်အကြောင်းကိုငါပြမည်။- သိမ်းသွားခြင်း
ကိုခံရသော ယုဒ အမျိုးနှင့် ဣ သရေလ အမျိုး
သားတို့ကိုတဖန် ငါဆောင်ခဲ့၍ အရင်ကဲ့သို့တည်
၈ ဆောက်မည်။- သူတို့သည် ငါ့ကို ပြစ်မှားသမျှ
သောအပြစ်တို့ကိုငါဖြေရှင်းမည်၊ ငါ့ကိုပြစ်မှား

၌ ငါ၏တရားကို ဘွန်ကျူးသမျှသော အပြစ်တို့
၉ ကိုငါလွှတ်မည်၊- ဤမြို့သည် ငါဝမ်းမြောက်စရာ
အကြောင်း၊ မြေပေါ်မှာ ခပ်သိမ်းသော လူမျိုး
တို့တွင် ချီးမွမ်းစရာအကြောင်း၊ ဂုဏ်အသရေ
တော်ကျော်စောစရာ အကြောင်း ဖြစ်လိမ့်မည်၊
ဤမြို့သားတို့အား ငါပြုသမျှသော ကျေးဇူးကို
လူအမျိုးမျိုးတို့သည် ကြားသိကြလိမ့်မည်၊ ဤ
မြို့၌ ငါပြုစုသမျှသော စည်းစိမ် ချမ်းသာကို
ထောက်၍ ကြောက်ရွံ့တုန်လှုပ်ကြလိမ့်မည်။
၁၀ ထာဝရဘုရားမိန့်တော်မူသည်ကား၊ လူမရှိ၊
တိရိစ္ဆာန် မရှိ၊ ဆိတ်ညံ့ပြီဟု၊ သင်တို့ ဆိုတတ်
သော ဤအရပ်၌၎င်း၊ လူမရှိ၊ တိရိစ္ဆာန် မရှိ၊ နေ
သောသူမရှိ၊ ဆိတ်ညံ့သောယုဒမြို့များ၊ ယေရုရှ
၁၁ လင် လမ်းများ တို့၌၎င်း၊- ရွှင်လန်း ဝမ်း
မြောက်သော အသံ၊ ရွှင်လန်းသော အသံ၊ မင်္ဂ
လာဆောင် သတို့သားအသံ၊ မင်္ဂလာဆောင်သ
တို့သမီးအသံ၊ ထာဝရဘုရားသည် ကောင်းမြတ်
တော်မူ၍၊ ကရုဏာ တော် သည် အစဉ် အမြဲ
တည်သောကြောင့်၊ ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရ ဘုရားကို ချီးမွမ်းကြလော့ဟု ဆိုသော
သူတို့၏အသံ၊ ချီးမွမ်းရာ ပူဇော်သကာကို ဗိမာ
န်တော် သို့ ဆောင်ခဲ့ သော သူ တို့၏ အသံ ကို
ကြားရကြလိမ့်မည်၊ အကြောင်းမူကား၊ သိမ်း
သွားခြင်းကို ခံရသောပြည်သားတို့ကိုငါဆောင်
ခဲ့၍၊ အရင်ကဲ့သို့ နေစေမည်ဟု မိန့်တော်မူ၏။-
၁၂ ကောင်းကင် ဗိုလ်ခြေအရှင် ထာဝရ ဘုရားမိန့်
တော်မူသည်ကား၊ လူမရှိ၊ တိရိစ္ဆာန်မရှိ၊ ဆိတ်
ညံ့သောဤအရပ်တွင်၊ မြို့ရွာရှိသမျှတို့၌သိုးစုကို
၁၃ ထိန်းသောသိုးထိန်းနေရာရှိလေဦးမည်။-တောင်
ပေါ်မြို့၊ ချိုင့်ထဲမြို့၊ တောင်ထက်မြို့၊ ဗင်္ယာမိန်
ပြည်၊ ယေရုရှလင်မြို့ ပတ်ဝန်းကျင်အရပ်၊ ယုဒ
မြို့များတို့၌၊ သိုးစုကို ရေတွက်သောသူ၏ လက်
အောက်မှာ၊ သိုးစုတို့သည် တဖန်ရှောက်သွား
ကြလိမ့်မည်ဟုမိန့်တော်မူ၏။
၁၄ တဖန် ထာဝရဘုရား မိန့်တော် မူသည်ကား၊
ဣသရေလ အမျိုးနှင့် ယုဒ အမျိုးသား တို့ ၌ ငါ
ထားသော ဂတိ အတိုင်း ကျေးဇူး ပြုရသော အ
၁၅ ချိန် ကာလ သည် ရောက်လိမ့်မည်။- ထို ကာလ
အခါ သန့်ရှင်း သော အညွန့် ကို ဒါဝိဒ် အဖို့ ငါ
ပေါက်စေ၍၊ သူသည် မြေကြီးပေါ်မှာ တရားသ
၁၆ ဖြင့်ခြောင့်မတ်စွာ စီရင်လိမ့်မည်။- ထိုကာလ၌
ယုဒပြည်သည် ကယ်တင်ခြင်းသို့ရောက်၍၊ ယေ
ရုရှလင်မြို့သည် ငြိမ်ဝပ်ခြင်းနှင့်ရှိလိမ့်မည်။
ထိုမြို့သည် ယေဟောဝါ ဖြောင့်မတ်ခြင်းဟူသော ဘွဲ့
၁၇ နာမ ရှိလိမ့်သတည်း။- ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ဣသရေလ နန်းတော်ပေါ်မှာထိုင်
ရသော ဒါဝိဒ် မင်းမျိုး မင်း စည် ထည် အလျှင်း
၁၈ မပြတ်ရ။- ငါ့ရှေ့မှာ မီးရှို့ရာ ယဇ် ကို ပူဇော်
လျက်၊ ဘောဇဉ် ပူဇော်သကာကို မီးရှို့လျက်၊
ယဇ်ပူဇော်ရာ ဝတ်ကို အစဉ်ပြုရသော လေဝိ
သား ယဇ်ပုရောဟိတ် မျိုးသည်၊ အလျှင်း မ
ပြတ်ရဟုမိန့်တော်မူ၏။
၁၉ တဖန်ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
၂၀ ယေရမိသို့ရောက်၍၊- ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ ငါထားသော နေ့ပဋိညာဉ်နှင့် ညဉ့်
ပဋိညာဉ် တရား ကို သင် တို့သည် ဖျက်၍၊ နေ့
ညဉ့် အပိုင်း အခြား မရှိ စေ ခြင်း ငှါ တတ် နိုင်
၂၁ လျှင်၊- ငါ၏ကျွန်ဒါဝိဒ်၌ငါထားသောပဋိညာဉ်
ပျက်၍၊ ဒါဝိဒ်၏ရာဇပလ္လင်ပေါ်မှာ မိုးစံရသော
ဒါဝိဒ်မင်းမျိုးသည်ပြတ်လိမ့်မည်၊ ငါ၏အမှုထမ်း
လေဝိသား ယဇ်ပုရောဟိတ် မျိုးသည်လည်းပြတ်လိမ့်
၂၂ မည်။- မိုဃ်း ကောင်းကင် တန်ဆာတို့ကို မရေ
တွက် နိုင်၊ သမုဒ္ဒရာ သဲလုံး တို့ကို တောင်း၍
နှင့်မချင်နိုင်သောအခြားပြားသကဲ့သို့၊ ငါ့ကျွန်ဒါ
ဝိဒ်၏ အမျိုးကို၎င်း၊ ငါ၏ အမှုထမ်း လေဝိ သား
တို့ ကို၎င်းငါများပြားစေမည်ဟုမိန့်တော်မူ၏။
၂၃ တ ဖန် ထာဝရဘုရား ၏ နှုတ် က ပတ် တော်
၂၄ သည် ယေရမိသို့ ရောက် လာသည်ကား၊- ထာ
ဝရဘုရား ရွေးကောက်သော လူမျိုး နှစ်မျိုးတို့
ကို တဖန် ပယ် တော် မူပြီဟု၊ ဤ လူတို့ ပြောဆို
သော စကားကို သင်သည် ဆင်ခြင်ပြီလော၊ ထို
သို့သူတို့သည် ငါ၏လူမျိုးကိုလူမျိုးကဲ့သို့မမှတ်၊
၂၅ မထီမဲ့မြင် ပြုကြပြီ။- ထာဝရဘုရား မိန့်တော်
မူသည်ကား၊ နေ့နှင့် ညဉ့် အဖို့ ငါ၏ ပဋိညာဉ်
မရှိလျှင် ၎င်း၊ မိုဃ်း ကောင်း ကင် နှင့် မြေကြီး
၂၆ တရား တို့ကို ငါမစီရင်လျှင်၎င်း၊- အာဗြဟံ၊ ဣ
ဇာက်၊ ယာကုပ် အမျိုး ကို အုပ်စိုး ရသောမင်း
အရာ၌၊ ယာကုပ်အမျိုးနှင့် ငါ့ကျွန်ဒါဝိဒ်၏အမျိုး
သားစည်မြေးဆက်ထဲက ငါရွေး၍မခန့်ထားဘဲ
ရှုံ့ပြစ်မည်၊ သို့မဟုတ်၊ သိမ်းသွားခြင်းကိုခံရ
သောထိုသူတို့ကို တဖန်ငါဆောင်ခဲ့၍ ကယ်မသ
နားမည်ဟုမိန့်တော်မူ၏။

## ၃၄

၁ ဗာဗုလုန် ရှင်ဘုရင် နebuchadnezzar ...

သည် မိမိလက်အောက် အပေါင်း၊ အမျိုးရတော် မူထုံ
သော တိုင်းနိုင်ငံသား၊ လူမျိုး အသီးအသီး အ
ပေါင်း၊ တို့နှင့် ထကြွ၊ ယေရုရှလင်မြို့ကိုငှင်း၊ ထိုမြို့
နှင့် ဆိုင်သမျှသော မြို့ရွာ တို့ကိုငှင် တိုက်သော
ကာလ၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
ယေရမိသို့ရောက်၍၊- ဣသရေလအမျိုး၏ဘုရား
သခင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်
သည် ယုဒရှင်ဘုရင် ဇေဒကိကို သွား၍ ပြောရ
မည်မှာ၊ ထာဝရဘုရား မိန့်တော် မူသည်ကား၊
ဤမြို့ကို ဗာဗုလုန် ရှင်ဘုရင် လက်သို့ ငါအပ်၍၊
၃ သူသည်မီးရှို့လိမ့်မည်။-သင်သည်ထိုမင်း၏လက်
နှင့်မလွတ်ရ၊ စင်စစ် သင့်ကို ဖမ်းဆီး၍ ထိုမင်း၏
လက်သို့အပ်ကြလိမ့်မည်။ သင်သည်ဗာဗုလုန်
ရှင်ဘုရင်ကိုမျက်နှာချင်းဆိုင်၍ တယောက် နှင့်
တယောက်စကားပြောရလိမ့်မည်။ ဗာဗုလုန်မြို့
၄ သို့လည်းသွားရလိမ့်မည်။- သို့ရာတွင်၊ယုဒရှင်
ဘုရင်ဇေဒကိမင်းကြီး၊ ထာဝရဘုရား၏ စကား
တော်ကိုနားထောင်လော့။မင်းကြီးကိုရည်မှတ်
၍ ထာဝရဘုရား မိန့် တော် မူ သည် ကား၊ သင်
၅ သည်ထားဖြင့်အသေမခံရ။- ငြိမ်ဝပ်စွာသေ၍
သင့်ရှေ့မှာမိုးခံသော ဘိုးတော်ဘေးတော်တို့အ
ဖို့မြှုပ်နှံသည်နည်းတူ၊ သင့်အဖို့ သာပေါင်းကို
မီးရှို့လျက်၊ဩော်သခင်ဟူ၍ငိုကြွေးမြည်တမ်း
ကြလိမ့်မည်။ ငါပြောထားပြီဟု၊ထာဝရဘုရား
၆ မိန့်တော်မူ၏။- ဗာဗုလုန်ရှင်ဘုရင်၏ဗိုလ်ခြေတို့
၇ သည် ယေရုရှလင်မြို့ကိုငှင်၊ ယုဒပြည်၌မိုင်ခံ၍
ကျန်ကြွင်းသောမြို့၊ လာခိရှ မြို့၊ အဇေကာ မြို့
တည်းဟူသော၊ ယုဒပြည်၌ ကျန် ကြွင်းသောမြို့
တို့ကိုငှင် တိုက်သော အခါ၊ ပရောဖက် ယေရမိ
သည်ထိုစကား အလုံးစုံတို့ကို ယုဒရှင်ဘုရင်ဇေ
ဒကိအား၊ဆင့်ဆိုလေ၏။
၈ ယေရုရှလင်မြို့သား၊ အပေါင်းတို့သည်အသီး
၉ အသီး စေစားသော ယုဒညီအစ်ကိုချင်း၊ အစေခံ
ရသော ဟေဗြဲအမျိုး ကျွန် ယောကျ်ား မိန်းမတို့ကို
နောက်တစန်မစေစားဘဲလွတ်စေခြင်းငှါ၊ ဇေဒ
ကိမင်းကြီးသည်လွတ်ခြင်းတရားကို မိရင်မည်
ဟုဝန်ခံပြီးသည်နောက်၊ ထာဝရဘုရား၏နှုတ်
၁၀ ကပတ်တော်သည်ယေရမိသို့ရောက်လာ၏။-အ
ကြောင်းမူကား၊ဝန်ခံသောမှူးမတ်၊ထင်ရှားသော
အပေါင်းတို့သည်အသီးအသီးစေစားသောကျွန်
ယောကျ်ား၊မိန်းမတို့ကို နောက် တစန် မစေစားဘဲ
လွှတ်ရမည်ဟု ကြားသောအခါ၊ နားထောင်၍

၁၁ လွှတ်လိုက်ကြ၏။- နောက်တစန် ပြောင်းလဲ၍
ထခင်လွှတ်ပြီးသော ကျွန်ယောကျ်ား မိန်းမတို့ကို
၁၂ ခေါ်ပြန်၍ အစေကျွန်ခံစေကြ၏။- ထိုကြောင့်၊
ထာဝရဘုရား၏နှုတ်ကပတ်တော်သည် ယေရ
၁၃ မိသို့ရောက်၍၊-ဣသရေလအမျိုး၏ဘုရားသခင်
ထာဝရဘုရား မိန့်တော် မူသည် ကား၊ သင်တို့
ဘိုးဘေးများကို ကျွန်ခံနေရာ အဲဂုတ္တုပြည်မှ ငါ
၁၄ နှုတ်ဆောင်သောအခါ၊-သင်တို့သည်အသီးအ
သီးဝယ်သောညီအစ်ကိုချင်း ဟေဗြဲအမျိုးသား
တို့ကိုခုနစ်နှစ်ရေ လျှင်လွှတ်ရမည်။ ခြောက်နှစ်
ပတ်လုံးသင်တို့၌အစေကျွန်ခံပြီးမှ၊ လွတ်သော
အခွင့်ကို ပေးရ မည်ဟု ပညတ် သော် လည်း၊
သင်တို့ ဘိုးဘေးများတို့သည် ငါ့စကားကိုနားမ
၁၅ ထောင်၊နားကိုငိုက်လျက်နေကြ၏။-သင်တို့သည်
ယခုမှာပြောင်းလဲ၍၊ အသီးအသီး အိမ်နီးချင်း
တို့အားလွတ်ရသောအခွင့်ကို ထင်ရှားစွာမိရင်
သဖြင့်၊ငါ့ရှေ့၌တရားသောအမှုကိုပြုလျက်၊ငါ့နာ
မဖြင့်သမုတ်သောဗိမ်ာန်တော်၌ငါ့ရှေ့မှာဝန်ခံ
၁၆ ခြင်း ပဋိညာဉ် ကို ပြုကြ သော် လည်း၊- တစန်
ပြောင်းလဲ၍ငါ၏နာမကို ရှုတ်ချလျက်၊ အသီးအ
သီးရှင်းရှင်းလွှတ်ဘူးသောကျွန်ယောကျ်ားမိန်း
မတို့ကိုခေါ်ပြန်၍အစေကျွန်ခံစေကြပြီတကား။-
၁၇ ထိုကြောင့်၊ ထာဝရဘုရားမိန့်တော်မူသည်ကား၊
သင်တို့သည်အသီးအသီးညီအစ်ကိုချင်း၊အိမ်နီး
ချင်းတို့အား လွှတ်ရသောအခွင့်ကို ထင်ရှားစွာ
မမိရင်၊ ငါ့စကားကိုနားမထောင် သောကြောင့်၊
ထာဝရဘုရား မိန့်တော်မူသည်ကား၊ ငါသည်
သင်တို့အဖို့၊ ထားဘေး၊ ကာလနာဘေး၊ မွတ်
သိပ်ခြင်းဘေးတို့အား လွှတ်သောအခွင့်ကိုထင်
ရှားစွာမိရင်၍၊ အတိုင်းတိုင်း၊အပြည်ပြည်တို့၌
၁၈ အနှောင့်အရှက်ခံစေမည်။-နွားသငယ်ကိုထက်
ခြမ်းခွဲ၍၊ အထက်သို့ရှောက်သွားလျက်၊ ငါ့ရှေ့
မှာပြုသောဝန်ခံခြင်းပဋိညာဉ်စကား၊အတိုင်းမ
ကျင့်၊ ငါ၏ပဋိညာဉ်ကို ဖျက်သောသူ တည်းဟူ
၁၉ သော၊-ယုဒမင်း၊ယေရုရှလင်မင်း၊မှူးမတ်၊ထမိ
ပရောဟိတ်အစရှိသော၊ နွားသငယ်ထက်ခြမ်း
အထက်သို့ရှောက်သွားသော ပြည်သူပြည်သား
၂၀ အပေါင်းတို့ကို၊- သူတို့ရန်သူများ လက်သို့ငှင်၊
သတ်ချင်သောသူများလက်သို့ငှင် ငါအပ်မည်။
သူတို့အသေကောင် များတို့သည် မိုးကောင်း
ကင်ငှက်နှင့်တောသားရဲများ၊စားစရာအဖို့ဖြစ်ကြ
၂၁ လိမ့်မည်။- ယုဒရှင်ဘုရင်ဇေဒကိနှင့်မှူးတော်

မတ်တော်တို့ကို သူတို့ရန်သူများ လက်သို့၎င်း၊
အသက်ရှာသောသူများလက်သို့၎င်း၊ သင့်ထံမှသွားသော
သော ဗာဗုလုန်ရှင်ဘုရင်၏ဗိုလ်ခြေများ လက်
၂၂ သို့၎င်း ငါအပ်မည်။– ငါသည်အမိန့်တော်ပေး၍
သူတို့ကို ဤမြို့သို့ပြန်လာစေမည်၊ သူတို့သည်
တိုက်ယူ၍ မီးရှို့ကြလိမ့်မည်၊ ငါသည်လည်း၊
ယုဒမြို့ရွာတို့ကိုလူဆိတ်ညံရာ အရပ်ဖြစ်စေမည်
ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

၃၅

ယုဒရှင်ဘုရင်ယောရှိသား ယောယကိမ်မင်း
လက်ထက်၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်
၂ သည် ယေရမိသို့ရောက်လာသည်ကား၊– သင်
သည်ရေခပ်အမျိုးသားတို့အိမ်သို့သွား၍၊သူတို့
နှင့်နှုတ်ဆက်ပြီးမှ၊ ဗိတ်မှန်တော်အခန်းတခန်း
ထဲသို့ခေါ်သွင်း၍ စပျစ်ရည်ကိုတိုက်ပေးလော့ဟု
၃ မိန့်တော်မူသည်အတိုင်း၊–ငါသည်ဟာဗဇိညာ
သားဖြစ်သောယေရမိ၏သား ယာဇညာမှစ၍၊
သူ၏ညီအစ်ကိုတို့နှင့်သားများအပေါင်း၊ရေခပ်
၄ အမျိုးသား အပေါင်းတို့ကို ခေါ်၍၊– ဗိတ်မှန်
တော်အတွင်း၊ တံခါးစောင့် ရှလ္လုံသားမာသေ
ယ၏အခန်းအပေါ်၊မှူးတော်မတ်တော်စည်းဝေး
ရာအခန်းနားမှာဘုရားသခင်၏လူဣဂဒါလိသား
ဟာနန်၏သားတို့ နေသောအခန်းထဲသို့ ဆောင်
၅ သွားပြီးလျှင်၊– ထိုရေခပ် အမျိုးသားတို့ ရှေ့၌
စပျစ်ရည်နှင့်ပြည့်သော အိုးများနှင့် ခွက်ဖလား
တို့ကိုထည့်၍၊စပျစ်ရည်ကိုသောက်ကြပါဟု၊သူ
၆ တို့အားဆို၏။–သူတို့ကလည်း၊အကျွန်ုပ်တို့သည်
စပျစ်ရည်ကိုမသောက်ပါ၊အကြောင်းမူကား၊အ
ကျွန်ုပ်တို့အမျိုး၏ အဖရေခပ်၏သားယောနဒပ်
က၊ သင်တို့မှစ၍ သားစည်မြေးဆက် တို့သည်
၇ စပျစ်ရည်ကိုမသောက်ရကြ။– အိမ်ကိုလည်းမ
ဆောက်ရ၊ မျိုးစေ့ကိုလည်းမကြဲရ၊စပျစ်ဥယျာဉ်
ကိုလည်း မစိုက်ရ၊ မရှိစေရကြ။ သင်တို့သည်
ဧည့်သည်ဖြစ်လျက်နေသောပြည်၌အသက်တာ
ရှည်မည်အကြောင်း၊တသက်လုံးတဲ၌သာနေ
၈ ရကြမည်ဟု၊ အကျွန်ုပ်တို့ကိုမှာထားပါပြီ။–ထို
ကြောင့်၊ အကျွန်ုပ်တို့သည် မယား သားသမီးနှင့်
၉ တကွ တသက်လုံးစပျစ်ရည်ကိုမသောက်။– နေ
စရာဘို့အိမ်ကိုလည်းမဆောက်၊ စပျစ်ဥယျာဉ်မ
၁၀ ရှိ၊လယ်ယာမရှိ၊မျိုးစေ့မရှိ။–တဲ၌သာနေ၍အ
ကျွန်ုပ်တို့အမျိုး၏အဖရေခပ်သားယောနဒပ်မှာ
ထားသမျှသောစကားကိုနားထောင်လျက်၊အဖ
ယောနဒပ်မှာထားသမျှ အတိုင်း ပြုကြပါပြီ။–
၁၁ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည်ဤပြည်
သို့လာသောအခါ၊အကျွန်ုပ်တို့က၊လာကြ။ ယေ
ရုရှလင်မြို့သို့သွားကြကုန်အံ့။ခါလဒဲစစ်သူရဲတို့
နှင့် ရှုရိစစ်သူရဲတို့ကို ကြောက်စရာ၌သည် ထူး
အချင်းချင်း ပြောဆို၍၊ ယခုယေရုရှလင်မြို့၌နေ
ကြပါသည်ဟု ဆိုကြ၏။
၁၂ ထိုအခါ ထာဝရဘုရား၏ နှုတ်ကပတ်တော်
၁၃ သည်ယေရမိသို့ ရောက်လာ၍၊– ဣသရေလ အ
မျိုး၏ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေ အရှင်
ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်သည်
ယုဒပြည်သူ၊ယေရုရှလင်မြို့သားတို့ရှိရာသို့သွား
၍၊ သင်တို့သည်စကားကိုနားထောင်ဖို့သော
ဩဝါဒမှုခြင်းကိုမခံကြသလောဟု၊ထာဝရဘုရား
၁၄ မေးတော်မူ၏။–စပျစ်ရည်ကိုမသောက်ရဟူ၍ရေ
ခပ်သားယောနဒပ်သည်မိမိသားတို့၌ထားသော
ပညတ်စကားအတိုင်း၊သူတို့သည်ကျင့်၍ယနေ့
တိုင်အောင်စပျစ်ရည်ကိုမသောက်ဘဲနေလျှတ်၊
အဖ၏ပညတ် စကား ကို နားထောင် ကြ၏။ ငါ
သည်စောစောထ၍ သင်တို့ကိုအထပ်ထပ်ပြော
သော်လည်း၊ သင်တို့သည် စကား ကို နားမ
၁၅ ထောင်ကြ။– ငါ၏ကျွန် ပရောဖက် အပေါင်းတို့
ကိုလည်း၊ငါသည်စောစောထ၍သင်တို့ရှိရာသို့
အထပ်ထပ်စေလွှတ်လျက်၊သင်တို့အသီးအသီး
လိုက်သောအဓမ္မလမ်းကိုရှောင်ကြလော့။ သင်
တို့အကျင့်ကိုပြုပြင်ကြလော့။အခြားတပါးသော
ဘုရား နောက်သို့ မလိုက်၊ ဝတ်မပြုကြနှင့်။ ဤ
စကားကိုနားထောင်လျှင်၊ သင်တို့နှင့် သင်တို့၏
ဘိုးဘေး တို့အား ငါပေးသော ပြည်၌ နေရကြ
လိမ့်မည်ဟုမှာလိုက်သော်လည်း၊ သင်တို့သည်
နားကိုပိတ်လျက်၊ စကားကိုနားမထောင်ဘဲ
၁၆ နေကြပြီ။– ရေခပ်သား ဖြစ်သော ယောနဒပ်၏
သားမြေးတို့သည်မိမိတို့အဖမှာထားသောစကား
အတိုင်းကျင့်ကြ၍၊ဤလူမျိုးသည်စကားကိုနား
၁၇ မထောင် သောကြောင့်၊– ဣသရေလ အမျိုး၏
ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအရှင်ဘုရား
သခင် ထာဝရဘုရား မိန့်တော်မူသည်ကား၊ ငါ
သည်ငြိမ်းသမျှသောဘေးဥပါတ်တို့ကိုယုဒပြည်
သူ၊ ယေရုရှလင်မြို့သားအပေါင်းတို့ အပေါ်သို့
ရောက်စေမည်။အကြောင်းမူကား၊ငါပြောသော်
လည်း၊ သူတို့သည်နားမထောင်ကြ။ ခေါ်သော်
လည်း၊မထူးကြဟု မိန့်တော်မူ၏။

၁၈ ရေခပ်အမျိုးသားတို့အား ယေရမိ
ဆင့်ဆိုသော၊ ဣသရေလအမျိုး၏ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏ အ
မိန့်တော် ဟူမူကား၊ သင်တို့သည် သင်တို့အဘ
ယောနဒပ်၏ ပညတ်စကားကို နားထောင်၍၊
ထိုမိန့်ရင်းထုံးဖွဲ့သမျှအတိုင်း ကျင့်စောင့်သော
၁၉ ကြောင့်၊– ရေခပ်သားယောနဒပ်အမျိုး၌ ငါ့ရှေ့
ထမ်းတို့သည် အစဉ်ရှိကြလိမ့်မည်ဟု၊ ဣသ
ရေလအမျိုး၏ဘုရားသခင်၊ ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရား မိန့်တော်မူ၏။

၃၆

၁ ယုဒရှင်ဘုရင်ယောရှိသားယောယကိမ်မင်း
နန်းစံလေးနှစ်တွင်၊ ထာဝရဘုရား၏ နှုတ်
ကပတ်တော်သည် ယေရမိသို့ ရောက်လာသည်
၂ ကား၊–သင်သည်စာလိပ်ကိုယူပြီးလျှင်၊ ယောရှိ
မင်းလက်ထက်၌ သင့်အားငါပြောသောနေ့မှစ
၍ယနေ့တိုင်အောင် ဣသရေလပြည်၊ယုဒပြည်
အစရှိသော၊ ခပ်သိမ်းသောတိုင်းပြည်တို့ကို ငါ
ခြိမ်းချောက်သမျှသောစကားအတိုင်းရေးထားလော့။–
၃ ယုဒအမျိုးတို့၌ရှိမည်ဟု၊ ငါကြံစည်သမျှသော
ဘေးဥပါဒ်တို့ကို သူတို့သည်ကြားသောအခါ၊
သူတို့ဒုစရိုက်အပြစ်ကိုငါလွှတ်မည်အကြောင်း၊
အသီးအသီး လိုက်သွားသော အကျင့်လမ်းတို့ကို
ရှောင်ကောင်းရှောင်ကြလိမ့်မည်ဟု မိန့်တော်မူ
၄ ၏။– ထိုအခါယေရမိသည်နေရိသားဗာရုတ်ကို
ခေါ်ပြီးလျှင်၊ ထာဝရဘုရားမိန့်တော်မူသမျှ
သောစကားတော်တို့ကိုပြန်ပြောသည်အတိုင်း၊
၅ ဗာရုတ်သည် စာလိပ်၌ ရေးထားလေ၏။– ယေ
ရမိကလည်း၊ငါသည်အချုပ်ခံလျက်နေရသော
၆ ကြောင့်၊မိတ်မှန်တော်သို့မသွားနိုင်။–သင်သွား
လော့၊ ငါပြန်ပြောသည်အတိုင်း၊ သင်သည်စာ
လိပ်၌ ရေးထားသော ထာဝရဘုရား၏ စကား
တော်တို့ကို၊ အစာရှောင်သောနေ့တွင်၊ မိတ်
မှန်တော်၌ရှိသောသူတို့အားဖတ်လော့၊ အမြို့မြို့
အရပ်ရပ်ကလာသောယုဒလူတို့အားလည်းဖတ်
၇ လော့။–သူတို့သည်အသီးအသီးလိုက်သွားသော
အကျင့်လမ်းကိုရှောင်လျက်၊ ထာဝရဘုရားအား
ပြပ်ဝပ်၍ဆုတောင်းကောင်းဆုတောင်းကြလိမ့်
မည်။ ဤလူမျိုး၌ ထာဝရဘုရား ခြိမ်းခြောက်မူ
သောအမျက်ဒေါသသည် အလွန်ပြင်းထန်ပေ၏
၈ ဟု။ ဗာရုတ်အားမှာထားလေ၏။– ထိုသို့ပရော
ဖက်ယေရမိမှာထားသမျှအတိုင်း၊နေရိသားဗာ
ရုတ်သည်ပြု၍၊ထာဝရဘုရား၏စကားတော်ပါ
သောစာကိုမိတ်မှန်တော်၌ဖတ်လေ၏။
၉ ယုဒရှင်ဘုရင်ယောရှိသားယောယကိမ်မင်း
နန်းစံငါးနှစ်၊ နဝမလတွင် ယေရုရှလင်မြို့သား
အပေါင်းတို့နှင့်၊ ယုဒမြို့ရွာမှ ယေရုရှလင်မြို့သို့
ရောက်လာသော သူအပေါင်းတို့သည် ထာဝရ
ဘုရားရှေ့တော်၌အစာရှောင်ရာအမှုန်ကိုကျော်
၁၀ ညာကြ၏။– ထိုအခါဗာရုတ်သည်မိတ်မှန်တော်
တံခါးသစ်နားမှာ၊ အထက်တန်တိုင်း အတွင်း၌
စာရေးတော်ရှာဖန်သားဂေမရိ၏အခန်း၌၊ယေ
ရမိမိန့်ရင်းသော စာကိုလူအပေါင်းတို့ရှေ့မှာဖတ်
၁၁ လေ၏။– ထိုစာ၌ပါသမျှသော ထာဝရဘုရား၏
စကားတော်တို့ကို ရှာဖန်သားဖြစ်သော ဂေမရိ
၁၂ ၏သားမိက္ခာယသည်ကြားလျှင်၊– နန်းတော်အ
တွင်း၊ စာရေးတော် အခန်း သို့ သွား၍၊ စာရေး
တော်ဧလိရှမာ၊ရှေမာယသားဒေလာယ၊အာခ
ဗော်သားဧလနာသန်၊ရှာဖန်သားဂေမရိ၊ဟာ
နနိသားဇေဒကိ အစရှိသောမှူးတော်မတ်တော်
၁၃ အပေါင်းတို့သည် ထိုင်လျက်ရှိကြ၏။– ထိုအခါ
ဗာရုတ်သည်လူများတို့အားဖတ်သောစာထဲက
မိက္ခာယကြားသမျှသော စကားတို့ကို ပြန်ပြော
၁၄ လေ၏။– ထိုမင်းအပေါင်းတို့သည်လည်း၊ကုရှိ၊
ရှေလမိ၊ နာသနိတို့မှဆင်းသက်သော ယေဟုဒိ
ကိုဗာရုတ်ထံသို့ စေလွှတ်လျက်၊ သင်သည် လူ
များတို့အား ဖတ်သောစာလိပ်ကို သင့်လက်နှင့်
ကိုင်၍ လာခဲ့ဟုခေါ်ကြ၏။ နေရိသား ဗာရုတ်
၁၅ သည်လည်း၊စာလိပ်ကိုကိုင်၍လာ၏။– သူတို့က
လည်း၊ ထိုင်လော့၊ ငါတို့အားဖတ်လော့ ဟု ဆို
သည်အတိုင်း၊ ဗာရုတ်သည် သူတို့ရှေ့မှာဖတ်
၁၆ လေ၏။–ထိုစကားအလုံးစုံတို့ကိုမင်းများတို့သည်
ကြားလျှင်၊ အချင်းချင်းကြောက်ရွံ့သောမိတ်ရှိ
၍၊ ငါတို့သည်ဤစကားအလုံးစုံတို့ကိုရှင်ဘုရင်
အားဆက်ဆက်ကြားလျှောက်ရမည်ဟုဗာရုတ်
၁၇ ကိုဆိုကြ၏။– တဖန် သင်သည် ဤစကားအလုံး
စုံတို့ကို သူနှုတ်မြွက်သည် အတိုင်း အဘယ်သို့
၁၈ ရေးထားသနည်းဟုမေးမြန်းလျှင်၊–ဗာရုတ်က၊
သူသည်ဤစကားအလုံးစုံတို့ကိုနှုတ်မြွက်၍၊အ
ကျွန်ုပ်သည် မှင်နှင့် ရေးထားပါ၏ ဟု ပြန် ပြော
၁၉ သော်၊–မင်းများတို့က၊ သင်သွားလော့၊ယေရမိ
နှင့်အတူပုန်းရှောင်၍နေလော့၊အဘယ်မှာနေ
သည်ကို တစုံတယောက်မျှမသိစေနှင့်ဟု၊ ဗာ
၂၀ ရုတ်အား မှာခဲ့၍၊– စာလိပ်ကိုစာရေးတော်ဧလိ

မတ်တော် တို့ကို သူတို့ ရန်သူများ လက်သို့ ၎င်း၊
အသက်ရှာသောသူများလက်သို့၎င်း၊ သင်တို့ထံမှသွား
သော ဗာဗုလုန်ရှင် ဘုရင်၏ဗိုလ်ခြေများ လက်
၂၂ သို့၎င်း ငါအပ်မည်။– ငါသည်အမိန့်တော်ပေး၍
သူတို့ကို ဤမြို့သို့ ပြန်လာစေမည်၊ သူတို့သည်
တိုက်ထူ၍ မီးရှို့ကြလိမ့်မည်၊ ငါသည်လည်း၊
ယုဒမြို့ရွာတို့ကိုလူဆိတ်ညံရာ အရပ်ဖြစ်စေမည်
ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

၃၅

ယုဒရှင်ဘုရင်ယောသိယ၏သား ယောယကိမ်မင်း
လက်ထက်၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်
၁ သည် ယေရမိသို့ရောက်လာသည်ကား၊– သင်
သည်ရေခပ်အမျိုးသားတို့အိမ်သို့ သွား၍၊သူတို့
နှင့်နှုတ်ဆက်ပြီးမှ၊ ဗိမ္မာန်တော်အခန်းတခန်း
ထဲသို့ခေါ်သွင်း၍ စပျစ်ရည်ကိုတိုက်ပေးလော့ဟု
၂ မိန့်တော်မူသည်အတိုင်း၊–ငါသည်ဟာဗဇိညာ
သားဖြစ်သောယေရမိ၏သား ယာဇညာမှစ၍၊
သူ၏ညီအစ်ကိုတို့နှင့်သားများအပေါင်း၊ရေခပ်
၃ အမျိုးသား အပေါင်း တို့ကို ခေါ်၍၊– ဗိမ္မာန်
တော်အတွင်း၊ တံခါးစောင့် ရှလ္လုံသားမာသေ
ယ၏အခန်းအပေါ်၊မှူးတော်မတ်တော်စည်းဝေး
ရာအခန်းနားမှာဘုရားသခင်၏လူဣဂဒါလိသား
ဟာနန်၏သားတို့ နေသောအခန်းထဲသို့ ဆောင်
၄ သွားပြီးလျှင်၊– ထိုရေခပ် အမျိုးသားတို့ ရှေ့၌
စပျစ်ရည်နှင့်ပြည့်သော အိုးများနှင့် ခွက်ဖလား
တို့ကိုထည့်၍၊စပျစ်ရည်ကိုသောက်ကြပါဟု၊သူ
၅ တို့အားဆို၏။–သူတို့ကလည်း၊အကျွန်ုပ်တို့သည်
စပျစ်ရည်ကိုမသောက်ပါ၊အကြောင်းမူကား၊အ
ကျွန်ုပ်တို့အမျိုး၏ အဖရေခပ်၏သားယောနဒပ်
က၊ သင်တို့မှစ၍ သားစဉ်မြေးဆက် တို့သည်
၆ စပျစ်ရည်ကိုမသောက်ရကြ။– အိမ်ကိုလည်းမ
ဆောက်ရ၊ မျိုးစေ့ကိုလည်းမကြဲရ၊စပျစ်ဥယျာဉ်
ကိုလည်း မစိုက်ရ၊ မရှိစေရကြ။ သင်တို့သည်
ဧည့်သည်ဖြစ်လျက်နေသောပြည်၌အသက်တာ
ရှည်မည်အကြောင်း၊တသက်လုံးတဲ၌သာနေ
၇ ရကြမည်ဟု၊ အကျွန်ုပ်တို့ကိုမှာထားပါပြီ။–ထို
ကြောင့်၊ အကျွန်ုပ်တို့သည် မယား သားသမီးနှင့်
၈ တကွ တသက်လုံး၊စပျစ်ရည်ကိုမသောက်။– နေ
စရာဘို့အိမ်ကိုလည်းမဆောက်၊ စပျစ်ဥယျာဉ်မ
၉ ရှိ၊လယ်ယာမရှိ၊မျိုးစေ့မရှိ။–တဲ၌သာနေ၍အ
ကျွန်ုပ်တို့အမျိုး၏အဖရေခပ်သားယောနဒပ်မှာ
ထားသမျှသောစကားကိုနားထောင်လျက်၊အဖ
၁၀ ယောနဒပ်မှာထားသမျှ အတိုင်း ပြုကြပါပြီ။–
၁၁ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည်ဤပြည်
သို့လာသောအခါ၊အကျွန်ုပ်တို့က၊လာကြ။ လော
ရုရှလင်မြို့သို့သွားကြကုန်အံ့၊ခါလဒဲစစ်သူရဲ တို့
နှင့် ရှုရိစစ်သူရဲ တို့ကို ကြောက်စရာ ရှိသည် ဟု၊
အချင်းချင်း ပြောဆို၍၊ ယခုယေရုရှလင်မြို့၌ နေ
ကြပါသည်ဟု ဆိုကြ၏။
၁၂ ထိုအခါ ထာဝရဘုရား၏ နှုတ်ကပတ်တော်
၁၃ သည်ယေရမိသို့ ရောက်လာ၍၊– ဣသရေလ အ
မျိုး၏ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေ အရှင်
ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်သည်
ယုဒပြည်သူ၊ယေရုရှလင်မြို့သားတို့ရှိရာသို့သွား
၍၊ သင်တို့သည်စကားကိုနားထောင်ဖို့သော
ဆုံးမခြင်းကိုမခံကြသလောဟု၊ထာဝရဘုရား
၁၄ မေးတော်မူ၏။–စပျစ်ရည်ကိုမသောက်ရဟု၊ရေ
ခပ်သားယောနဒပ်သည်မိမိသားတို့၌ထားသော
ပညတ်စကားအတိုင်း၊သူတို့သည်ကျင့်၍ယနေ့
တိုင်အောင်စပျစ်ရည်ကိုမသောက်ဘဲနေလျှက်၊
အဖ၏ပညတ် စကား ကို နားထောင် ကြ၏။ ငါ
သည်စောစောထ၍ သင်တို့ကိုအထပ်ထပ်ပြော
သော် လည်း၊ သင်တို့ သည် စကား ကို နားမ
၁၅ ထောင်ကြ။– ငါ၏ကျွန် ပရောဖက် အပေါင်းတို့
ကိုလည်း၊ငါသည်စောစောထ၍သင်တို့ရှိရာသို့
အထပ်ထပ်စေလွှတ်လျက်၊သင်တို့အသီးအသီး
လိုက်သောအဓမ္မလမ်းကိုရှောင်ကြလော့။ သင်
တို့အကျင့်ကိုပြုပြင်ကြလော့။အခြားတပါးသော
ဘုရား နောက်သို့မလိုက်၊ ဝတ်မပြုကြနှင့်။ ဤ
စကားကိုနားထောင်လျှင်၊ သင်တို့နှင့် သင်တို့၏
ဘိုးဘေး တို့အား ငါပေးသော ပြည်၌ နေရကြ
လိမ့်မည်ဟုမှာလိုက်သော်လည်း၊ သင်တို့သည်
နားကိုပိတ်လျက်၊ စကားကို နားမထောင်ဘဲ
၁၆ နေကြပြီ။– ရေခပ်သား ဖြစ်သော ယောနဒပ်၏
သားမြေးတို့သည်မိမိတို့အဖမှာထားသောစကား
အတိုင်းကျင့်ကြ၍၊ဤလူမျိုးသည်စကားကိုနား
၁၇ မထောင် သောကြောင့်၊– ဣသရေလ အမျိုး၏
ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအရှင်ဘုရား
သခင် ထာဝရဘုရား မိန့်တော်မူသည်ကား၊ ငါ
သည်မြွက်သမျှသောဘေးဥပါဒ်တို့ကိုယုဒပြည်
သူ၊ ယေရုရှလင်မြို့သားအပေါင်းတို့ အပေါ်သို့
ရောက်စေမည်။အကြောင်းမူကား၊ငါပြောသော်
လည်း၊ သူတို့သည်နားမထောင်ကြ။ ခေါ်သော်
လည်း၊မထူးကြဟုမိန့်တော်မူ၏။

၁၈ ရေခပ်အမျိုးသားတို့အား ဆိုသည်ကား၊ ယေရမိ
အား ဆိုသော၊ ဣသရေလအမျိုး၏ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏ အ
မိန့်တော် တူမူကား၊ သင်တို့သည် သင်တို့ အဘ
ယောနဒပ်၏ ပညတ်စကားကို နား ထောင် ၍၊
သူ မှာထားသမျှအတိုင်း ကျင့် စောင့် သော
၁၉ ကြောင့်၊– ရေခပ်သားယောနဒပ်အမျိုး၌ ငါ့ရှေ့
ထမ်းထိုသည့် အစည် မရှိကြ ရလိမ့်မည်ဟု၊ ဣသ
ရေလ အမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏။

၃၆

၁ ယုဒရှင်ဘုရင်ယောရှိသားယောယကိမ်မင်း
နန်းစံ လေး နှစ် တွင်၊ ထာ ဝ ရ ဘုရား၏ နှုတ်
ကပတ်တော်သည် ယေရမိသို့ ရောက်လာသည်
၂ ကား၊–သင်သည်စာလိပ်ကိုယူပြီးလျှင်၊ ယောရှိ
မင်းလက်ထက်၌ သင့်အားငါပြောသော နေ့မှစ
၍ ယနေ့ တိုင်အောင် ဣသရေလပြည်၊ ယုဒပြည်
အစရှိသော၊ ခပ်သိမ်းသောတိုင်းပြည်တို့ကို ငါ
မြွက်ဆိုသမျှသောစကားအတိုင်းရေးထားလော့။–
၃ ယုဒအမျိုးသည်မျှ မည်သူ၊ ငါကြံစည်သမျှသော
ဘေးဥပါဒ်တို့ကို သူတို့သည်ကြားသောအခါ၊
သူတို့ရှေ့မျက်မှောက်ကိုငါလွှတ်မည့်အကြောင်း၊
အသီးအသီး ဆိုးသော အကျင့် လမ်း တို့ကို
ရှောင်ကောင်းရှောင်ကြလိမ့်မည်ဟု မိန့်တော်မူ
၄ ၏။– ထိုအခါယေရမိသည်နေရိသားဗာရုတ်ကို
ခေါ်ပြီးလျှင်၊ ထာဝရဘုရားမိန့်တော်မူသမျှ
သောစကားတော်တို့ကိုပြန်ပြောသည်အတိုင်း၊
၅ ဗာရုတ်သည် စာလိပ်၌ ရေးထားလေ၏။– ယေ
ရမိကလည်း၊ ငါသည်အချုပ်ခံလျက်နေရသော
၆ ကြောင့်၊ဗိမာန်တော်သို့မသွားနိုင်။–သင်သွား
လော့၊ ငါပြန်ပြောသည်အတိုင်း၊ သင်သည်စာ
လိပ်၌ ရေးထား သော ထာဝရ ဘုရား၏ စကား
တော် တို့ ကို၊ အစာ ရှောင်သော နေ့တွင်၊ ဗိမာန်
တော်၌ရှိသောသူတို့အားဖတ်လော့၊ အမြို့မြို့
အရပ်ရပ်ကလာသောယုဒလူတို့အားလည်းဖတ်
၇ လော့။–သူတို့သည်အသီးအသီးဆိုးသော
အကျင့်လမ်းကိုရှောင်လျက်၊ ထာဝရဘုရားအား
ပြပ်ဝပ်၍ဆုတောင်းကောင်းဆုတောင်းကြလိမ့်
မည်။ ဤလူမျိုး၌ ထာဝရ ဘုရား မြွက်တော်မူ
သောအမျက်ဒေါသသည် အလွန်ပြင်းထန်ပေ၏
၈ ဟု၊ ဗာရုတ်အားမှာထားလေ၏။– ထိုသို့ပရော
ဖက်ယေရမိမှာထားသမျှအတိုင်း၊နေရိသားဗာ
ရုတ်သည်ပြု၍၊ထာဝရဘုရား၏စကားတော်ပါ
သောစာကိုဗိမာန်တော်၌ဖတ်လေ၏။
၉ ယုဒရှင်ဘုရင်ယောရှိသားယောယကိမ်မင်း
နန်းစံငါးနှစ်၊ နဝမလတွင် ယေရုရှလင်မြို့သား
အပေါင်းတို့ နှင့်၊ ယုဒမြို့ရွာမှ ယေရုရှလင်မြို့သို့
ရောက် လာသော သူ အပေါင်းတို့သည် ထာဝရ
ဘုရားရှေ့တော်၌အစာရှောင်ရာအမိန့်ကိုကျော်
၁၀ ညာကြ၏။– ထိုအခါဗာရုတ်သည်ဗိမာန်တော်
တံခါးသစ်နားမှာ၊ အထက်တန်တိုင်း အတွင်း
စာရေးတော်ရှာဖန်သားဂေမရိ၏အခန်း၌၊ယေ
ရမိစီရင်သော စာကိုလူ အပေါင်းတို့ရှေ့မှာ ဖတ်
၁၁ လေ၏။– ထိုစာ၌ပါသမျှသော ထာဝရဘုရား၏
စကားတော်တို့ကို ရှာဖန်သားဖြစ်သော ဂေမရိ
၁၂ ၏သားမိက္ခာယသည်ကြားလျှင်၊– နန်းတော်အ
တွင်း၊ စာရေး တော် အခန်း သို့ သွား၍၊ စာရေး
တော်ဧလိရှမာ၊ ရှေမာယသား ဒေလာယ၊ အာခ
ဗော်သားဧလနာသန်၊ ရှာဖန်သားဂေမရိ၊ ဟာ
နနိသားဇေဒကိ အစရှိသောမှူးတော် မတ်တော်
၁၃ အပေါင်းတို့သည် ထိုင်လျက်ရှိကြ၏။– ထိုအခါ
ဗာရုတ်သည်လူများတို့အားဖတ်သောစာထဲက
မိက္ခာယကြားသမျှသော စကားတို့ကို ပြန်ပြော
၁၄ လေ၏။– ထိုမင်းအပေါင်းတို့သည်လည်း၊ကုရှိ၊
ရှေလမိ၊ နာသနိတို့မှ ဆင်းသက်သော ယေဟုဒိ
ကိုဗာရုတ်ထံသို့ စေလွှတ်လျက်၊ သင်သည် လူ
များတို့အား ဖတ်သောစာလိပ်ကို သင့်လက်နှင့်
ကိုင်၍ လာခဲ့ဟုခေါ်ကြ၏။ နေရိသား ဗာရုတ်
၁၅ သည်လည်း၊စာလိပ်ကိုကိုင်၍လာ၏။– သူတို့က
လည်း၊ ထိုင်လော့၊ ငါတို့ အားဖတ်လော့ ဟု ဆို
သည်အတိုင်း၊ ဗာရုတ်သည် သူတို့ရှေ့မှာဖတ်
၁၆ လေ၏။–ထိုစကားအလုံးစုံတို့ကိုမင်းများတို့သည်
ကြားလျှင်၊ အချင်းချင်းကြောက်ရွံ့သောမိတ်ရှိ
၍၊ ငါတို့သည်ဤစကားအလုံးစုံတို့ကိုရှင်ဘုရင်
အားဆက်ဆက်ကြားလျှောက်ရမည်ဟုဗာရုတ်
၁၇ ကိုဆိုကြ၏။– တဖန် သင်သည် ဤစကားအလုံး
စုံတို့ကို သူ့နှုတ်မြွက်သည် အတိုင်း အဘယ်သို့
၁၈ ရေးထားသနည်းဟုမေးမြန်းလျှင်၊–ဗာရုတ်က၊
သူသည်ဤစကားအလုံးစုံတို့ကိုနှုတ်မြွက်၍၊အ
ကျွန်ုပ်သည် မှင်နှင့် ရေးထား ပါ ၏ ဟု ပြန် ပြော
၁၉ သော်၊–မင်းများတို့က၊ သင်သွားလော့၊ယေရမိ
နှင့်အတူဝှန်းရှောင်၍နေလော့၊အဘယ်မှာနေ
သည်ကို တစုံတယောက်မျှမသိစေနှင့်ဟု၊ ဗာ
၂၀ ရုတ်အား မှာခဲ့၍၊– စာလိပ်ကိုစာရေးတော်ဧလိ

ရှမာ၏ အခန်း၌ ထား၍ပြီးမှ နန်းတော်အတွင်း၊၊
ရှင်ဘုရင် ထံသို့ဝင်၍၊ ထိုအမှုကို အကုန်အစင်
လျှောက်ကြ၏။
၂၀ ရှင်ဘုရင်သည်ထိုစာလိပ်ကိုယူချေဟု၊ယေဟု
ဒိကိုစေလွှတ်သဖြင့်၊ ယေဟုဒိသည်စာရေးတော်
ဧလိရှမာ၏ အခန်းထဲကယူ၍၊ ရှင်ဘုရင် အစရှိ
သောအထံတော်၌ရပ်နေသောမှူးမတ်အပေါင်း
၂၁ တို့ရှေ့မှာဖတ်လေ၏။- ထိုအခါ နဝမလ ဖြစ်၍၊
၂၂ ရှင်ဘုရင်သည် ဆောင်းကာလ၌စံပျော်ရာနန်းအ
ခန်းတွင်ထိုင်၍၊ ရှေ့တော်၌မီးမယ်ဖြူပေါ်မှာမီး
၂၃ ခဲပုံရှိ၏။-ယေဟုဒိသည်သုံးလေးချပ်ထောက်
ဖတ်မိလျှင်၊ ရှင်ဘုရင်သည် စာရေး၏ ထားနှင့်
ဖြတ်၍၊မီးမယ်ဖြူပေါ်မှာရှိသောမီးထဲသို့စာလိပ်
ကိုချဖြစ်လျှင်၊ အကုန်အစင် ကျွမ်းလောင်လေ
၂၄ ၏။- ရှင်ဘုရင် မှ စ၍၊ ထိုစကား အလုံးစုံ တို့ကို
ကြားသော ရှင်ဘုရင်၏ ကျွန် တယောက် မျှ မ
၂၅ ကြောက်၊မိမိအဝတ်ကိုလည်းမဆုတ်ကြ။- ရှင်
ဘုရင် သည် စာလိပ်ကို မီးမရှို့စေခြင်းငှါ၊ ဧလ
နာသန်၊ဒေလာယ၊ ဂေမရိတို့သည် တောင်းပန်
သော်လည်း၊ ရှင်ဘုရင်သည် သူတို့ စကားကို
၂၆ နားမထောင်။- တဖန်ရှင်ဘုရင်သည်စာရေးဗာ
ရုတ်နှင့် ပရောဖက်ယေရမိကို ဖမ်းဆီးစေခြင်း
ငှါ၊သားတော်ယေရမေလ၊ အာဇရေလသားစေ
ရာယ၊ အာဗဒေလသား ရှေလမိတို့ကို စေလွှတ်
လေ၏၊သို့ရာတွင်၊ထာဝရဘုရားသည်ထိုသူနှစ်
ယောက်တို့ကိုဝှက်ထားတော်မူ၏။
၂၇ ယေရမိနှုတ်မြွက်သည်အတိုင်း ဗာရုတ်ရေး
ထားသော ထိုစာလိပ်ကို ရှင်ဘုရင် မီးရှို့သော
နောက်၊ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂၈ ယေရမိသို့ရောက်လာသည်ကား၊-သင်သည်အ
ခြားသော စာလိပ်ကိုယူ၍၊ ယုဒရှင်ဘုရင် ယော
ယကိမ်မီးရှို့သောအရင်စာလိပ်၌ ပါသမျှသော
၂၉ စကားရင်းအတိုင်းရေးထားလော့။-သင်သည်
ယုဒရှင်ဘုရင်ယောယကိမ်အား ပြောဆိုရမည်
မှာ၊ထာဝရဘုရား မိန့်တော်မူသည်ကား၊ ဗာဗု
လုန်ရှင်ဘုရင်သည်ဆက်ဆက်လာ၍ ဤပြည်ကို
ဖျက်ဆီးလိမ့်မည်။ လူနှင့် တိရစ္ဆာန် အပေါင်း
တို့ ကို သုတ် သင် ပယ် ရှင်း လိမ့် မည် ဟူ သော
စကားကိုအဘယ်ကြောင့်ရေးထားသနည်းဟု၊
၃၀ သင်သည်ဆို၍စာလိပ်ကိုမီးရှို့ပြီ။- ထိုကြောင့်၊
ထာဝရဘုရားသည် ယုဒရှင်ဘုရင်ယောယကိမ်
ကိုရည်မှတ်၍မိန့်တော်မူသည်ကား၊သူ၏အမျိုး
အနွယ်သည် ဒါဝိဒ်၏ ရာဇပလ္လင်ပေါ်မှာ မထိုင်
ရ။သူ၏အသေကောင်ကိုနေ့အချိန်၌ နေပူထဲသို့
၎င်း၊ ညဉ့်အချိန်၌နှင်းခဲထဲသို့၎င်း ပြစ်လိုက်ကြ
၃၁ လိမ့်မည်။- သူမှစ၍သူ၏သားမြေးတို့ကို၎င်း၊ သူ
၏ကျွန်တို့ကို၎င်း၊ အပြစ်နှင့် အလျောက် ငါစီရင်
မည်။သူတို့နှင့်ယေရုရှလင်မြို့သူ၊ယုဒပြည်သား
တို့သည်နားမထောင်၊ သူတို့အပေါ်သို့ငါမြွက်ဆို
မှူသောဘေးဥပါဒ်တို့ကို ရောက်စေမည်ဟု မိန့်
၃၂ တော်မူ၏။- ထိုအခါယေရမိသည် အခြားသော
စာလိပ်ကိုယူ၍၊ နေရိသားစာရေးဗာရုတ်အား
ပေးသဖြင့်၊ ယုဒ ရှင်ဘုရင် ယောယ ကိမ် မီး ရှို့
သောစာ၌ ပါ သ မျှ သော စကား တို့ကို ယေရမိ
သည် နှုတ်မြွက်၍၊ ဗာရုတ်သည် ရေးထား၏။
အလားတူသောစကားအများကိုလည်းထပ်၍
သွင်းရ၏။

## ၃၇

၁ ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာသည် ယုဒ
ရှင်ဘုရင် အရာ၌ ခန့် ထား သော ယောယကိမ်
သား ခေါနိအရာ၌၊ ယောရှိမင်းကြီး၏သားဇေ
၂ ဒကိ မင်းကြီး သည် နန်း ထိုင် လေ၏။- ထာဝရ
ဘုရားသည် ယေရမိအားဖြင့် မိန့်တော် မူ သော
စကားတော်တို့ကို၊ ထိုမင်းကြီးအစရှိသောကျွန်
များ၊ ပြည်သူ ပြည်သား များ တို့ သည် နား မ
ထောင်ဘဲနေကြ၏။
၃ တရံရောအခါဇေဒကိမင်းကြီးသည်၊ ရှေလမိ
သားယေဟုကလ နှင့် ယဇ်ပရောဟိတ်မာသေ
ယသားဇေဖနိတို့ကိုပရောဖက်ယေရမိထံသို့စေ
လွှတ်၍၊ ငါတို့အဖို့ ငါတို့ဘုရားသခင် ထာဝရ
ဘုရားအားဆုတောင်းပါလော့ဟု မှာလိုက်၏။-
၄ ထိုအခါ ယေရမိသည် ထောင်ထဲသို့ မ ရောက်
သေး။ လူများတို့နှင့် ပေါင်းဖော် လျက် နေသေး
၅ ၏။- ယေရုရှလင်မြို့ကိုဝိုင်းသော ခါလဒဲလူတို့
သည်၊ အဲဂုတ္တုပြည်မှ ဖာရောဘုရင်၏ ဗိုလ်ခြေ
များစစ်ချီ၍လာကြောင်းကိုကြားလျှင်၊ ထိုမြို့မှ
၆ ထွက်သွားကြပြီ။-ထိုအခါထာဝရဘုရား၏နှုတ်
ကပတ်တော်သည် ပရောဖက်ယေရမိသို့ရောက်
၇ ၍၊- ဣသရေလ အမျိုး၏ ဘုရားသခင် ထာဝရ
ဘုရား မိန့်တော်မူသည်ကား၊ ငါ့ကိုမေးလျှောက်
စေခြင်းငှါ၊ သင့်ကို မှာလိုက်သောယုဒရှင်ဘုရင်
အား၊ဤသို့ပြန်ပြောလော့။ သင်တို့ကိုစစ်ကူခြင်း
ငှါထွက်လာသောဖာရောဘုရင်၏ ဗိုလ်ခြေတို့သည်သူ
တို့နေရင်း အဲဂုတ္တုပြည်သို့ ပြန် သွား ကြ လိမ့်

၈ မည်။- ခါလဒဲလူတို့ သည် ထပ်ပြန်၍၊ ဤမြို့ကို
၉ တိုက်ယူပြီးလျှင် မီးရှို့ကြလိမ့်မည်။- ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ အကယ်စင်စစ်ခါ
လဒဲလူတို့သည် ငါတို့ထံမှ ထွက် သွား၊ ကြလိမ့်
မည်ဟုဆို၍ ကိုယ်ကို ကိုယ်မလှည့်စားကြနှင့်။
၁၀ သူတို့သည်ထွက်၍မသွားရကြ။- ထိုမျှမက၊သင်
တို့ကို စစ်တိုက်သော ခါလဒဲစစ်သူရဲ အပေါင်း
တို့ကို သင်တို့သည် လုပ်ကြံ သဖြင့်၊ သူတို့တွင်
ဒါဏ်ချက် ထိ သော သူ သက်သက် ကျန်ကြွင်း
သော်လည်း၊ သူတို့သည် အသီး အသီး မိမိ တို့
တဲ၌ ထ၍၊ ဤမြို့ကို မီးရှို့ ရကြ လိမ့်မည် ဟု မိန့်
တော်မူ၏။
၁၁ ခါလဒဲစစ်သူရဲတို့သည် ဖာရောဘုရင်၏ ဗိုလ်
ခြေတို့ကို ကြောက်ရွံ့ ၍၊ ယေရုရှလင်မြို့မှဆုတ်
၁၂ သွားကြသောအခါ၊- ယေရမိသည်မိမိအမျိုး၌
မိမိအရွေ့ဥစ္စာကိုခံတို့သောငှါ၊ ဗင်္ယာမိန် ပြည်
သို့သွားမည်ဟုအကြံရှိ၍ယေရုရှလင်မြို့မှထွက်
၁၃ သွားလေ၏။- ဗင်္ယာမိန်တံခါးဝသို့ရောက်သော
အခါ၊ ဟာနနိ သား ဖြစ် သော ရှေလမိ ၏ သား
ကင်းမှူးဣရိယက၊သင်သည်ခါလဒဲလူတို့ဘက်
သို့ကူးသွားပါသည်တကားဟုဆိုလျက်၊ ပရော
၁၄ ဖက် ယေရမိကို ဖမ်းဆီး လေ ၏။- ယေရမိ က
ထည်း၊မဟုတ်ပါ။ ခါလဒဲလူတို့ဘက်သို့ငါမကူး
မသွားပါဟုဆိုသော်လည်း၊ ဣရိယသည်နားမ
ထောင်ဘဲ၊ ယေရမိ ကို ယူ၍ မင်း များ ထံ သို့ ပို့
၁၅ ဆောင်လေ၏။- မင်းများတို့သည်အမျက်ထွက်
၍ယေရမိကိုရိုက်ပြီးမှ၊စာရေးတော်ယောနသန်
၏အိမ်၌ လှောင်ထားကြ၏။ ထိုအိမ်ကို လှောင်
အိမ်လုပ်နှင့်သတည်း။
၁၆ ယေရမိသည် အိမ်အောက်မြေတွင်း၊ လှောင်
အိမ်ထဲသို့ရောက်၍၊ နေ့ရက်များစွာနေရသော
၁၇ နောက်၊-ဇေဒကိမင်းကြီးသည်လူကိုစေလွှတ်၍
ယေရမိကို ခေါ်ပြီးမှ၊ ထာဝရဘုရား၏ နှုတ်က
ပတ်တော်ရှိသလောဟု၊ နန်းတော်၌တိတ်ဆိတ်
စွာမေးမြန်းလျှင်၊ယေရမိက၊ နှုတ်ကပတ်တော်
ရှိပါ၏။ ကိုယ်တော် သည် ဗာဗုလုန် ရှင်ဘုရင်
လက်သို့ရောက်ပါလိမ့်မည်ဟုပြန်လျှောက်၏။-
၁၈ တဖန်ယေရမိက၊ အကျွန်ုပ်သည်ကိုယ်တော်ကို
ပြစ်မှားသလော။ ကိုယ်တော် ၏ ကျွန် တို့ကို ပြစ်
မှား သ လော။ ဤ လူ မျိုး ကို ပြစ်မှား သ လော။
အဘယ်မည်သော အပြစ် ကြောင့် အကျွန်ုပ် ကို
၁၉ လှောင်ထားကြသနည်း။- ဗာဗုလုန် ရှင်ဘုရင်
သည်သင်တို့နှင့် ဤပြည်ကို မတိုက် မလာရဟု
ဟောပြောသော၊ သင်တို့၏ပရောဖက် တို့ သည်
၂၀ ယခု အဘယ်မှာ ရှိကြသနည်း။- သို့ဖြစ်၍၊ အ
ကျွန်ုပ်သခင် အရှင်မင်းကြီး၊ နားထောင်တော်မူ
ပါ။ အကျွန်ုပ်တောင်းပန် သော စကားကို နားခံ
တော်မူပါ။ အကျွန်ုပ် ကို သေစေခြင်းငှါ၊ စာရေး
တော်ယောနသန်အိမ်သို့ ပြန်စေတော်မမူပါနှင့်
၂၁ ဟု၊ဇေဒကိမင်းကြီးကိုလျှောက်ဆို၏။- ထိုအခါ
ဇေဒကိ မင်း ကြီး အမိန့် တော် ရှိ ၍၊ ယေရမိ ကို
ထောင်ဝင်း၌ထားကြ၏။မြို့တွင်ရိက္ခာမကုန်မှီတိုင်
အောင်၊ မုန့်သည်တန်းမှ မုန့်တလုံးကို နေ့တိုင်း
အစည်ပေးရ၏။ထိုသို့ ယေရမိသည် ထောင်ဝင်း
ထဲမှာနေလေ၏။

၃၈

၁-၃ ထာဝရဘုရား မိန့်တော်မူသည်ကား၊ ဤမြို့
ထဲမှာနေသောသူသည် ထားဘေး၊ မွတ်သိပ်ခြင်း
ဘေး၊ကာလနာဘေးတို့နှင့်သေလိမ့်မည်။ ခါလ
ဒဲ လူတို့ ဘက်သို့ ထွက် သွား သော သူသည် အ
သက် ချမ်းသာ၍၊ လက်ရ ဥစ္စာ ကဲ့သို့ ကိုယ်အ
သက်ကို ရလိမ့်မည်ဟူ၍၎င်း၊ ဤမြို့ကိုဗာဗုလုန်
ရှင်ဘုရင်၏ဗိုလ်ခြေလက်သို့ဆက်ဆက်အပ်၍၊
သူ သည် သိမ်း ယူ လိမ့် မည် ဟူ၍၎င်း၊ ထာဝရ
ဘုရားမိန့်တော်မူ၏ဟု၊ ယေရမိသည်လူအပေါင်း
တို့အား ဟော ပြော တတ် သော စကား များကို
မဿန်သား ရှေဖတိ၊ပါရှုရသားဂေဒလိ၊ ရှေလ
မိသားယေဟုကလ၊မာလခိသားပါရှုရတို့သည်
၄ ကြားသောအခါ၊- ထိုမှူးမတ်တို့သည်ရှင်ဘုရင်
ထံသို့ဝင်၍၊ ဤသူသည် ဤ သို့သော စကားကို
ပြောသဖြင့်၊ မြို့ထဲမှာကျန်ကြွင်းသေးသော စစ်
သူရဲအစရှိသော လူအပေါင်းတို့၏လက်ကိုအား
လျော့စေတတ်ပါ၏။ သူသည်ဤလူမျိုး၏အကျိုး
ကိုမပြုစုတတ်၊ဖျက်ဆီးတတ်ပါ၏။ ထို့ကြောင့်၊
သူကိုကွပ်မျက်ပါမည့်အကြောင်း၊အခွင့်တောင်း
၅ ပန်ပါ၏ဟုလျှောက်လျှင်၊- ဇေဒကိမင်းကြီးက၊
သူသည်သင်တို့လက်၌ရှိ၏။ ရှင်ဘုရင်သည်သင်
၆ တို့အလိုကို မဆီးတားနိုင်ဟု မိန့်တော်မူ၏။-ထို
အခါယေရမိကိုယူ၍၊ထောင်ဝင်းထဲမှာရှိသော
သားတော် မာလခိ၏မြေတွင်း၌ကြိုးနှင့်လျှော့ချ
ကြ၏။ ထိုမြေတွင်း၌ရေမရှိ၊ ရွံ့သာရှိ၍၊ယေရမိ
သည်ရွံ့၌တျံ့လျက်နေ၏။
၇ ထိုသို့ယေရမိကိုမြေတွင်း၌ချထားကြောင်းကို
နန်းတော်အရာရှိ ဖြစ်သောသူ၊ ကုရှအမျိုးသား

၃၈

ဧဗဒမေလက်သည်ကြားသိသောအခါ၊ ရှင်ဘု
ရင်သည်ဗင်္ယာမိန်တံခါး၌ထိုင်နေတော်မူစဉ်
၈ တွင်၊- ထိုသူသည်နန်းတော်ထဲကထွက်၍အထံ
၉ တော်သို့ သွားပြီးလျှောင်၊- အကျွန်ုပ်သခင် အရှင်
မင်းကြီး၊ ထိုသူတို့သည်ပရောဖက်ယေရမိကိုပြု
သောသမျှတို့၌ မှားကြ ပါပြီ။ မြေ တွင်း၌ ချထား
ကြပါပြီ၊ မြို့၌ ရိက္ခာကုန်သောကြောင့်၊ ထိုတွင်း၌
သေ ဖွတ်၍သေပါလိမ့်မည်ဟုလျှောက်သော်၊-
၁၀ ရှင်ဘုရင်က၊ ပရောဖက် ယေရမိ မသေမှီ ဤအ
ရပ်မှလူသုံးဆယ်ကိုခေါ်သွား၍၊မြေတွင်းထဲက
နှုတ်ယူလော့ဟု၊ ကုရှအမျိုးသားဧဗဒမေလက်
၁၁ ကိုအမိန့်တော်ရှိ၏။-ဧဗဒမေလက်သည်လည်း
လူတို့ကိုခေါ်၍နန်းတော်အတွင်း၊ဘဏ္ဍာတိုက်
အောက်သို့ ဝင်ပြီးလျှင်၊ ဟောင်းနွမ်းသောအ
ဝတ်စုတ်များကိုယူပြီးမှ၊ ယေရမိရှိရာ မြေတွင်း
၁၂ ၌ကြိုးနှင့် လျှော့ချလေ၏။- ထိုအခါ ကုရှအမျိုး
သားဧဗဒမေလက်က၊ဟောင်းနွမ်းသောဤအ
ဝတ်စုတ်တို့နှင့် သင်၏လက်ကတီးကြား၌ ကြိုး
ကို ခုခံပါလော့ဟု ဆိုသည်အတိုင်း၊ ယေရမိပြု
၁၃ လေ၏။-ထိုသို့ယေရမိကိုမြေတွင်းထဲကကြိုးနှင့်
ဆွဲတင်ကြ၏။ ထိုနောက် ယေရမိသည် ထောင်
ဝင်းထဲမှာနေလေ၏။

၁၄ တဖန်ဇေဒကိမင်းကြီးသည်လူကိုစေလွှတ်၍၊
ဗိတ်မှန်တော်၌ တတိယအတွင်းခန်းထဲသို့ ယေ
ရမိကိုခေါ်ပြီးလျှင်၊ သင်၌တစုံတခုကို ငါမေး
မြန်းမည်။ အဘယ်အရာကိုမျှ မထိမ်မဝှက်နှင့်
၁၅ ဟု ဆို သော်၊- ယေရမိက၊ အကျွန်ုပ် လျှောက်
လျှင်၊ အကျွန်ုပ်ကို မသတ်ဘဲ အမှန် နေ တော်မူ
မည်လော၊ အကျွန်ုပ်သည် အကြံ ပေးလျှင်၊ အ
ကျွန်ုပ် စကားကို နား ထောင်တော် မူမည်လော
၁၆ ဟု၊ဇေဒကိကိုမေးလျှောက်လေ၏။-ဇေဒကိမင်း
ကြီးကလည်း၊ငါတို့ကိုအသက်ရှင်သောသတ္တဝါ
ဖြစ်စေ ခြင်းငှါ ဖန် ဆင်း သော ထာဝရ ဘုရား၏
အသက် ရှင်တော်မူသည်အတိုင်း၊ သင့်ကို ငါမ
သတ်၊ သင့်အသက်ကို ရှာသော ထိုလူတို့လက်
သို့သင့်ကိုငါမအပ်ဟု၊ယေရမိအားတိတ်ဆိတ်
၁၇ စွာကျိန်ဆိုလေ၏။- ယေရမိကလည်း၊ ဗိုလ်ခြေ
အ အမျိုး၏ ဘုရားသခင်၊ ဣသရေလ ဘုရားသခင်
အရှင် ဘုရား၊ ထာ ဝရ ဘုရား မိန့် တော်မူ
သည်ကား၊ကိုယ်တော်သည်ဗာဗုလုန်ရှင်ဘုရင်
၏မှူးမတ်တို့ထံသို့အမှန်ထွက်သွားလျှင်၊အသက်
ရှင်းသာ ရတော်မူမည်။ ဤမြို့သည်လည်း မီးရှို့
ခြင်းနှင့် လွတ်လိမ့်မည်။ ကိုယ်တော်နှင့် အဆွေ
အွေတော်မျိုးတော်တို့သည် အသက်ရှင်းသာရ
၁၈ ကြလိမ့်မည်။- သို့မထွက်၊ကိုယ်တော်သည်ဗာ
ဗုလုန်ရှင်ဘုရင်၏မှူးမတ်တို့ထံသို့မထွက်မသွား
လျှင်၊ ဤမြို့ကို ခါလဒဲလူတို့လက်သို့အပ်၍၊ သူ
တို့သည် မီးရှို့ကြ လိမ့်မည်။ ကိုယ် တော်သည်
လည်း သူတို့လက်နှင့် မလွတ်ရဟု၊ ဇေဒကိကို
၁၉ လျှောက်ဆို၏။- ဇေဒကိ မင်းကြီးကလည်း၊ ခါ
လဒဲ လူတို့လက်သို့ ထွက်သွားသော ယုဒလူတို့ကို
ငါကြောက်၏။ ငါကို သူတို့ လက်သို့ အပ်၍၊ ငါ
သည် ကဲ့ရဲ့ခြင်းကိုခံရမည် မိုးရိမ်သည်ဟု ဆို
၂၀ လျှင်၊- ယေရမိက၊ ကိုယ်တော်ကိုမအပ်ရ။ အ
ကျွန်ုပ် ဆင့် ဆို သော၊ ထာဝရဘုရား၏ အမိန့်
တော်ကို နားထောင် တော်မူပါ။ ထိုသို့ပြုလျှင်၊
ချမ်းသာရ၍ အသက် ရှင် တော် မူမည်။- သို့မ
ထွက်၊ ကိုယ်တော်က၊ ငါမထွက်မသွားဟု ငြင်း
လျှင်၊ အကျွန်ုပ်အား ထာဝရဘုရားပြ တော်မူ
၂၁ သောအရာ ဟူမူကား၊- နန်းတော်၌ ကျန်ကြွင်း
သမျှသောမိန်းမတို့ကိုဗာဗုလုန်ရှင်ဘုရင်၏မှူးမတ်
တို့ထံသို့ထုတ်ဆောင်ကြလိမ့်မည်။ ထိုမိန်းမတို့က
လည်း၊ ကိုယ်တော်၏ အဆွေ ခင်ပွန်း တို့ သည်
သွေးဆောင်၍နိုင်ကြပြီ၊ ခြေတော်သည် နွံ၌ထွံ
၍၊သူတို့သည် ဆုတ်သွားကြပြီဟု၊ ကိုယ်တော်
၂၂ အား ဆိုကြ လိမ့် မည်။- ထိုသို့ ကိုယ်တော် ၏
မယားနှင့်သားသမီးရှိသမျှတို့ကို ခါလဒဲလူတို့ထံ
သို့ထုတ်ဆောင်ကြလိမ့်မည်။ကိုယ်တော်သည်
လူတို့ လက် နှင့် မလွတ်ဘဲ၊ ဗာဗုလုန် ရှင်ဘုရင်
လက်သို့ရောက်၍၊ ဤမြို့ကို မီးရှို့စေတော်မူမည်
၂၃ ဟုလျှောက်၏။- ဇေဒကိကလည်း၊ ဤစကားကို
အဘယ်သူမျှမကြားမသိစေနှင့်။သို့ပြုလျှင်၊သင်
၂၄ သည် မသေရ။- ငါ သည် သင်နှင့် စကား ပြော
ကြောင်းကို မှူးမတ်တို့သည် ကြား၍၊ သင်ရှိရာ
သို့လာလျက်၊သင်သည်ရှင်ဘုရင်အားအဘယ်
သို့ လျှောက် သည်ကိုငှင်၊ ရှင်ဘုရင်သည် သင့်
အား အဘယ်သို့ မိန့်တော် မူသည်ကိုငှင်း၊ ငါတို့
အား ကြားပြော ပါလော့။ မထိမ် မဝှက် ပါနှင့်
၂၅ ဟု ဆိုလျှင်၊- သင်က လည်း၊ ငါကို ယောနသန်
၂၆ အိမ်သို့ ပြန်၍သေစေတော်မမူမည် အ
ကြောင်း၊ ရှင်ဘုရင်ထံ၌ ငါအသနားတော်ခံပြီ
ဟု၊ သူတို့အားပြန်ပြောလော့ဟု၊ ယေရမိအား
၂၇ မိန့်တော်မူ၏။- ထိုအခါမှူးမတ်အပေါင်းတို့သည်
ယေရမိ ရှိရာသို့ လာ၍ မေးမြန်းကြ၏၊ သူသည်

အညီ၊ ရှင်ဘုရင် မှာ ထား သ မျှ အတိုင်း၊ ပြန်
ပြောပြီးမှ၊ လူတို့သည်မမေးမစစ်ဘဲနေကြ၏၊ ထို
၂၈ အမှုကို အထယ်သူမျှမရိပ်မိကြ။– ယေရုရှလင်
မြို့ကို တိုက် ၍ ရသော နေ့ တိုင် အောင်၊ ယေရမိ
သည် ထောင်ဝင်းထဲမှာနေရ၏၊ ယေရုရှလင်မြို့
သည်ရန်သူထက်သို့ရောက်သောအခါ၊ ထောင်
ဝင်းထဲမှာရှိသော၏။

၃၉

၁ ယုဒ ရှင်ဘုရင် ဇေဒကိ မင်းကြီးနန်းစံ ကိုးနှစ်
စသမသ တွင်၊ ဗာဗုလုန် ရှင်ဘုရင် နေဗုခဒ် နေ
ဇာသည် မိမိ ဗိုလ်ခြေ အပေါင်းတို့နှင့်တကွ လာ၍
၂ ယေရုရှလင်မြို့ကိုဝိုင်းထားကြ၏။– ဇေဒကိမင်း
ကြီးနန်းစံဆယ်တနှစ်၊ စတုတ္ထလ၊ ကိုးရက်နေ့၌
၃ မြို့ကိုဖြိုဖောက်၍၊– ဗှ ထားဝန်နေရဂါလရှရေ
ဇာ၊ မိဗ္ဗမိုးအုပ်စာသမိမ်၊ မာဂုပညာရှိအုပ်နေရ
ဂါလရှရေဇာတည်းဟူသော၊ ဗာဗုလုန်ရှင်ဘု
ရင်၏ မှူးမတ် အစရှိသော မှူးတော်မတ်တော် အ
ပေါင်းတို့သည် မြို့ထဲသို့ဝင်၍၊ အလယ်ချက် တံ
၄ ခါး၌ ထိုင်ကြ၏။– ယုဒရှင်ဘုရင် ဇေဒကိမင်း
နှင့် စစ်သူရဲ အပေါင်းတို့သည် ထိုလူများကို မြင်
လျှင်၊ ညည့်အခါပြေး၍ ဥယျာဉ်တော် လမ်းကို
လိုက်လျှက်၊ မြို့ရိုးနှစ်ထပ် စပ်ကြား တံခါး ဖြင့်
၅ ထွက်ပြီးမှ လွင်ပြင်သို့သွားကြ၏။–ခါလဒဲစစ်သူ
ရဲ တို့သည်လိုက်လျက်၊ ယေရိခေါလွင်ပြင်၌ဇေ
ဒကိ မင်းကိုမှီ၍ ဖမ်းဆီးပြီးမှ၊ ဗာဗုလုန် ရှင်ဘု
ရင် နေဗုခဒ်နေဇာရှိရာ ဟာမတ်ပြည် ရိဗလမြို့
သို့ဆောင်သွားကြ၏၊ ဗာဗုလုန် ရှင်ဘုရင်သည်
၆ ဇေဒကိမင်း၏အမှုကိုစစ်ကြောစီရင်၍၊– ရိဗလ
မြို့မှာ ဇေဒကိ သား တို့ ကို အဝ မျက် မှောက်၌
သတ် လေ၏၊ ယုဒ မှူး မတ် အ ပေါင်း ကို လည်း
၇ သတ်လေ၏။– ဇေဒကိ မျက်စိကိုလည်း ဖောက်
ပြီးမှ၊ သူကိုကြေးဝါကြိုးနှင့် ချည်နှောင်လေ၏။–
၈ ခါလဒဲ လူတို့သည်လည်း၊ နန်းတော်နှင့် ဆင်းရဲ
သားအိမ်တို့ကိုမီး ရှို့၍၊ မြို့ရိုး ကိုဖြိုဖျက်ကြ၏။–
၉ ထိုအခါ ကိုယ်ရံတော်မှူး နေဗုဇာရဒန်သည် မြို့
ထဲမှာ ကျန်ကြွင်း သောသူ၊ ခါလဒဲ လူဘက်သို့
ကူး သွား နှင့်သောသူ၊ ကျန်ကြွင်းသမျှသော သူ
၁၀ တို့ကို ဗာဗုလုန် မြို့သို့သိမ်းသွား လေ၏။– သို့ရာ
တွင်၊ ဥစ္စာ ပစ္စည်း မရှိသော ဆင်းရဲ သား၊ အချို့
တို့ကို ယုဒ ပြည်၌ ထား ခဲ့၍၊ စပျစ် ဥယျာဉ် နှင့်
လယ်ယာတို့ကိုပေးသော်၏။
၁၁ ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာသည် ယေ
ရမိအမှု၌၊ ကိုယ်ရံတော်မှူး နေဗုဇာရဒန်ကိုမှာ
၁၂ ထားနှင့် သည်ကား၊– ယေရမိကိုယူ၍ ကောင်း
မွန်စွာ ကြည့်ရှုလော့၊ မညှဉ်းဆဲနှင့်၊ သူပြော
သည်အတိုင်းသူကိုပြုလော့ဟု မှာထားတော်မူ
၁၃ သည်နှင့်အညီ၊– ကိုယ်ရံတော်မှူးနေဗုဇာရဒန်၊
မိဗ္ဗမိုးအုပ်နေဗုရှာဇဗန်၊ မာဂုပညာရှိအုပ်နေရ
ဂါလရှရေဇာအစရှိသော ဗာဗုလုန်ရှင်ဘုရင်၏
၁၄ မှူးမတ်အပေါင်းတို့သည်လူကိုစေလွှတ်၍၊–ယေ
ရမိကို ထောင်ဝင်းထဲက နှုတ်ယူပြီးလျှင်၊ သူ၏
နေရာသို့ ပို့ဆောင် စေခြင်းငှါ၊ ရှာဖန်သား ဖြစ်
သော အဟိကံ၏သား ဂေဒလိ၌ အပ်ကြ၏၊ သို့
ဖြစ်၍၊ ယေရမိသည်ပြည်သားများနှင့်အတူ နေ
နှင့်လေ၏။
၁၅ ယေရမိသည် ထောင် ဝင်းထဲမှာ အချုပ်ခံရ
သောအခါ၊ ထာဝရဘုရား၏ နှုတ် ကပတ်တော်
၁၆ ရောက်၍၊– သင်သည်ကုရှအမျိုးသား ဧဗဒမေ
လက်ကို ဆင့်ဆိုရမည်မှာ၊ ဣသရေလ အမျိုး၏
ဘုရားသခင်၊ ကောင်းကင် ဗိုလ်ခြေ အ ရှင် ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ဤမြို့၏အကျိုး
ကိုမပြုစေ၊ ဖျက်ဆီးခြင်းငှါ ငါ့စကားကို ငါတည်
စေမည်၊ ကာလအချိန်ရောက်လျှင်၊သင့်ရှေ့၌င
၁၇ စကား ပြည့်စုံလိမ့်မည်။– သို့သော်လည်း၊ ထို
ကာလ၌သင့်ကိုငါကယ်နှုတ်မည်၊ သင်ကြောက်
၁၈ သော သူတို့လက်သို့ သင်မရောက်ရ။– ငါသည်
သင့်ကို စင်စစ်ကယ်နှုတ်မည်၊ သင်သည်ထား
ဖြင့် မဆုံးရ၊ ထက်ရဥစ္စာကဲ့သို့ကိုယ်အသက်ကို
ရလိမ့်မည်၊ အကြောင်းမူကား၊ သင်သည် ငါ့ကို
ကိုးစားသောကြောင့်တည်း ဟု၊ ထာဝရဘုရား
မိန့်တော်မူ၏။

၄၀

၁ ကိုယ်ရံတော်မှူး နေဗုဇာရဒန်သည် ယေရမိ
ကို တဖန် သိမ်း သွား ၍ ရာမမြို့က လွှတ် သော
နောက်၊ ထာဝရ ဘုရား ထံတော်မှ နှုတ် ကပတ်
တော်သည် ရောက် လာ သည် အရာ မှာ၊ ဗာဗု
လုန်မြို့သို့သိမ်းသွားခြင်းကို ခံရသောယုဒပြည်
သူ၊ ယေရုရှလင်မြို့သား အပေါင်းတို့နှင့် အတူ၊
ယေရမိသည်သံကြိုးနှင့် ချည်နှောင်ခြင်းကို ခံရ
၂ သောအခါ၊ ကိုယ်ရံတော်မှူးသည်သူကိုခေါ်၍၊
သင်၏ဘုရားသခင် ထာဝရဘုရားသည်ဤပြည်
၃ ၌ရောက်သောအမှုကိုမြွက်တော်မူနှင့်ပြီ။–မြွက်
တော်မူသည်အတိုင်းလည်း၊ အမှုကိုရောက်စေ
၍ စီရင်တော်မူပြီ၊ သင်တို့သည် အမိန့်တော်ကို

နား မထောင်၊ ထာဝရဘုရားကို ပြစ်မှားသော
ကြောင့်၊ ဤအမှုသည် သင်တို့အပေါ်သို့ ရောက်
၄ လေပြီ။-ယခုမှာသင့်လက်၌ချည်နှောင်လျက်ရှိ
သောသံကြိုးကို ငါချွတ်မည်။ ငါနှင့်အတူ ဗာဗု
လုန်မြို့သို့ လိုက်လာခြင်းငှါအလိုရှိလျှင်၊ လိုက်
လာပါ။ငါသည်ကောင်းမွန်စွာကြည့်ရှုမည်။ငါ
နှင့်အတူဗာဗုလုန်မြို့သို့ လိုက်ခြင်းငှါ အလိုမရှိ
လျှင်၊မလိုက်နှင့်၊တပြည်လုံးသည်သင့်ရှေ့မှာရှိ
၏။ ထကြွင်အရပ်သို့သွားကောင်းသည်ဟု စိတ်
ထင်လျှင်၊ ထိုအရပ်တည်းဟူသောစိတ်ရောက်
၅ ရာ အရပ်သို့ သွားပါလော့ဟု ဆို၏။- ယေရမိ
သည် ကိုယ်ရံတော်မှူး ထံမှ မထွက်မှီ၊ ကိုယ်ရံ
တော်မှူးက၊ ဗာဗုလုန်ရှင်ဘုရင်သည်ယုဒပြည်
နယ်တွင်၊ မြို့အုပ်အရာ၌ ခန့်ထားတော်မူသော
ရှာဖန်၏သားဖြစ်သော အဟိကံ၏သား ဂေဒလိ
ထံသို့ပြန်၍၊ပြည်သားများနှင့်အတူနေပါလော့။
သို့မဟုတ်၊စိတ်ရှိသည်အတိုင်းသွားပါလော့ဟု
ဆိုလျက်၊ စားစရိတ်နှင့် လက်ဆောင်ကိုပေး၍
၆ လွှတ်လိုက်လေ၏။-ထိုအခါယေရမိသည်အဟိ
ကံသားဂေဒလိရှိရာမိဇပါမြို့သို့သွား၍၊ပြည်၌
ကျန်ကြွင်းသေးသောသူတို့နှင့်အတူနေလေ၏။
၇ ဗာဗုလုန် ရှင်ဘုရင်သည် အဟိကံသားဂေဒ
လိကို ပြည်အုပ် အရာ၌ ခန့်ထား၍၊ ဗာဗုလုန်
မြို့သို့ သိမ်းယူရာ၌မပါသော ယောကျ်ားမိန်းမသူ
ငယ်ဆင်းရဲသားအချို့တို့ကို သူ၌အပ်ကြောင်း
ကို၊ တောမှာရှိသောတပ်မှူးတို့နှင့် စစ်သူရဲများ
၈ တို့သည် ကြားသိကြသောအခါ၊- နာသနိသား
ဣရှမေလ၊ကာရာသား ယောဟနန်နှင့် ယောန
သန်၊ တာနုမက်သား စရာယ၊ နေတောဖတ်အ
မျိုး၊ဧဖဲ၏သားများ၊ မာခသိအမျိုးသားယေဇနိ
တို့သည်မိမိလူများနှင့်တကွ ဂေဒလိရှိရာ မိဇပါ
မြို့သို့လာ၍၊- ရှာဖန်၏သားဖြစ်သော အဟိကံ
၏သားဂေဒလိက၊ ခါလဒဲမင်း၏အမှုကို ဆောင်
ရွက်ရမည့် အခွင့်ကို မစိုးရိမ် ကြနှင့်။ ဤပြည်၌
နေ၍ ဗာဗုလုန်ရှင်ဘုရင်အမှုကိုဆောင်ရွက်ကြ
၁၀ လော့။သို့ပြုလျှင်၊ချမ်းသာရကြလိမ့်မည်။-ငါမူ
ကား၊လာထတ္တံသောခါလဒဲလူတို့စကားကိုနား
ထောင်ခြင်းငှါ မိဇပါ မြို့မှာ နေမည်။ သင်တို့မူ
ကား၊စပျစ်ရည်ကိုဎင်၊ နွေကာလအသီးကိုဎင်၊
ဆီကိုဎင်သိမ်း၍ အိုး၌သိုထားကြလော့။ ယခု
ဇင်ပြန်သောမြို့ ရွာတို့၌ နေကြလော့ဟူ၍၊ ထိုသူ
၁၁ တို့အား သစ္စာ ပြု လေ၏။- ဗာဗုလုန် ရှင်ဘုရင်
သည်ယုဒပြည်၌လူအချို့တို့ကိုကျန်ကြွင်းစေ၍၊
ရှာဖန်၏သားဖြစ်သော အဟိကံ၏သား ဂေဒလိ
ကိုမင်းအရာ၌ခန့်ထားကြောင်းကို၊မောအပြည်၊
အမ္မုန်ပြည်၊ ဧဒုံပြည်အစရှိသောအတိုင်းတိုင်း
အပြည်ပြည် တို့၌ ရှိသော ယုဒ လူ အပေါင်း တို့
၁၂ သည်ကြားသိကြသောအခါ၊-နှင်ထုတ်ရာပြည်
အရပ်ရပ်တို့မှပြန်လာ၍၊ယုဒပြည်၊ဂေဒလိရှိရာ
မိဇပါ မြို့သို့ ရောက်သဖြင့်၊ များစွာသော စပျစ်
ရည်နှင့်နွေကာလအသီးကိုသိမ်းယူကြ၏။
၁၃ ထိုနောက်မှ၊ ကာရာသား ယောဟနန် သည်
တော၌ရှိသော တပ်မှူးများနှင့်တကွ၊ ဂေဒလိရှိ
၁၄ ရာ မိဇပါမြို့သို့လာ၍၊- ကိုယ်တော်ကို သတ်စေ
ခြင်းငှါ၊ အမ္မုန်ရှင်ဘုရင်ဗာလိတ်သည်နာသနိ
သားဣရှမေလကိုစေလွှတ်ကြောင်းကိုအမှန်သိ
ပါ၏လော ဟု မေးလျှောက် သော် လည်း၊ ထို
၁၅ စကားကို အဟိကံသားဂေဒလိသည်မယုံ။- ထို
အခါကာရာသားယောဟနန်ကလည်း၊အကျွန်ုပ်
သွား၍ နာသနိသား ဣရှမေလကို သတ်ရသော
အခွင့်ကိုပေးပါလော့။ အဘယ်သူမျှမသိရ။ သူ
သည်ကိုယ်တော်ကိုသတ်၍၊ ကိုယ်တော်ထံ၌စု
ဝေးသောယုဒလူအပေါင်းတို့သည်အရပ်ရပ်သို့
ကွဲပြားသဖြင့်၊ ယုဒပြည်၌ ကျန်ကြွင်းသော သူ
တို့သည် အဘယ်ကြောင့် ပျက်စီး ရကြ ပါမည်
နည်းဟု၊ မိဇပါမြို့၌ ဂေဒလိကို တိတ်ဆိတ် စွာ
၁၆ လျှောက်သော်လည်း၊-အဟိကံသားဂေဒလိက၊
သင်သည် ထိုသို့မပြုရ။ ဣရှမေလ၌ မမှန်သော
စကားကို ပြန်ပြောပြီဟု၊ ကာရာသား ယောဟ
နန်အားပြန်ပြောလေ၏။

၄၁

၁ သတ္တမ လတွင် ဆွေတော် မျိုး တော် ဖြစ်သော
မင်းသားဧလိရှမာသား နာသနိ၏သား ဣရှမေ
လသည်၊လူတကျိပ်နှင့်တကွ၊အဟိကံသားဂေ
ဒလိရှိရာ မိဇပါမြို့သို့လာ၍၊ ထိုမြို့၌ တစုတည်း
၂ စားသောက်ကြ၏။- ထိုအခါ နာသနိသား ဣရှ
မေလနှင့် ထိုလူတကျိပ်တို့သည်ထ၍၊ ဗာဗုလုန်
ရှင်ဘုရင်အခွင့်နှင့်ပြည်အုပ်လုပ်သောရှာဖန်၏
သားဖြစ်သော အဟိကံ၏သား ဂေဒလိကို ထား
၃ နှင့်ခုတ်၍သတ်ကြ၏။- ဣရှမေလသည်လည်း၊
မိဇပါ မြို့တွင် ဂေဒလိ ထံ၌ ရှိသော ယုဒ လူ အ
ပေါင်းတို့ကိုဎင်၊ တွေ့သမျှသော ခါလဒဲစစ်သူရဲ
၄ တို့ကိုဎင် သတ်လေ၏။- ဂေဒလိကိုသတ်၍၊ နှစ်
ရက်လွန်သော်လည်း၊ ထိုအမှုကို အဘယ်သူမျှ

၅ မသိသေးသောအခြင်၊–ရှေခင်မြို့၊ ရှိလောမြို့၊ ရှမာရိမြို့
မှထွက်လာသော လူရှစ်ကျိပ်တို့သည် မိမိတို့ မု
ဆိတ်ကိုရိတ်ပြီးလျှင်၊ အဝတ်စုတ်ကိုဝတ်၍ ရှနိ
သော ကိုယ်ရှိလျက်၊ ပူဇော်သက္ကာနှင့် နံ့သာ
ပေါင်းကိုမိမိတ်မှန်တော်သို့ဆောင်ခဲ့လျက်ရောက်
၆ လာကြ၏။–ထိုသူတို့ကို ကြိုဆိုထိုသောငှါ၊ နာသ
နိသား ဣရှမေလသည် ငိုကြွေးလျက်၊ မိဇပါမြို့
မှထွက်၍တွေ့သောအခါ၊ အဟိကံသားဂေဒလိ
၇ ထံသို့ လာကြလော့ဟု ခေါ်လေ၏။– မြို့ထဲသို့
ရောက်ပြီးလျှင်၊ နာသနိသားဣရှမေလနှင့်သူ၏
လူများတို့သည် ထိုသူတို့ကိုသတ်၍၊ မြေတွင်းထဲ
၈ သို့ပစ်ချကြ၏။–ထိုသူတို့တွင်ပါသောလူတကျိပ်
တို့က၊ အကျွန်ုပ်တို့ကို မသတ်ပါနှင့်။ အကျွန်ုပ်
တို့ထိုထားသောဂျုံ၊ မုယော၊ ဆီ၊ ပျားရည်
သည် တော၌ရှိပါ၏ဟု၊ ဣရှမေလ
အား ပြောဆိုသောကြောင့်၊ ထိုသူတို့ကို သူတို့
၉ ညီအစ်ကိုများနှင့်အတူ မသတ်ဘဲနေ၏။– ဣရှ
မေလသည် ဂေဒလိနှင့်အတူ သတ်သောသူ အ
လောင်းများကို ပစ်ချသော တွင်းသည် အ
ခြားတွင်းမဟုတ်၊ အာသမင်းကြီးသည်ဣသရေ
လရှင်ဘုရင် ဗာရှာကို ကြောက်၍ တူးသော
တွင်းဖြစ်သတည်း။ ထိုတွင်းကိုနာသနိသားဣရှ
မေလသည် အလောင်းများနှင့် ပြည့်စေ၏။–
၁၀ ထိုအခါအဟိကံသားဂေဒလိ၌ကိုယ်ရံတော်မှူး
နေဗုဇာရဒန်အပ်သောမင်းသမီးများအစရှိသော၊
မိဇပါမြို့၌ ကျန်ကြွင်းသမျှသောသူတို့ကို နာသ
နိသားဣရှမေလသည်သိမ်းသွား၍၊ အမ္မုန်အမျိုး
သားတို့ထံသို့ထွက်သွားလေ၏။
၁၁ ထိုသို့နာသနိသားဣရှမေလပြုသောအမှုဆိုး
အလုံးစုံတို့ကို၊ ကာရာသား ယောဟနန်နှင့် သူ
ထံ၌ရှိသမျှသော တပ်မှူးတို့သည် ကြားလျှင်၊–
၁၂ လူအပေါင်းတို့ကိုခေါ်၍၊ နာသနိသားဣရှမေလ
ကိုတိုက်ခြင်းငှါထွက်သွားသဖြင့်၊ ဂိဗောင်ကန်
နားမှာ တွေ့လေ၏။– ဣရှမေလ၌ပါသော သူအ
ပေါင်းတို့သည် ကာရာသားယောဟနန်နှင့်သူ၌
ပါသောတပ်မှူး အပေါင်းတို့ကို မြင်သောအခါ၊
၁၃ ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။–ထိုအခါမိဇ
ပါမြို့မှ ဣရှမေလသိမ်းသွားသော လူအပေါင်း
တို့သည် လှည့်၍ထွက်၍၊ ကာရာသား ယောဟ
၁၄ နန်ထံသို့ကူးသွားကြ၏။–နာသနိသားဣရှမေလ
သည်လူရှစ်ယောက်နှင့်တကွ၊ ယောဟနန်ထံက
မှထွက်ပြေး၍၊ အမ္မုန်အမျိုးသားတို့ထံသို့သွား
၁၅ လေ၏။– ထိုသို့အဟိကံသားဂေဒလိကိုသတ်ပြီး
သည်နောက်၊ ကာရာသားယောဟနန်နှင့် သူထံ
၌ရှိသောတပ်မှူးအပေါင်းတို့သည်နာသနိသား
ဣရှမေလထံမှငှင်၊ မိဇပါမြို့မှငှင်နှုတ်၍ကျွန်
ကြွင်းသော လူတည်းဟူသော၊ အားကြီးသော
စစ်သူရဲများ၊ မိန်းမများ၊ သူငယ်များ၊ မိန်းမိုးများ
၁၆ အပေါင်းတို့ကိုဂိဗောင်မြို့မှဆောင်ခဲ့ပြန်၍– ခါ
လဒဲလူတို့ကြောင့် အဲဂုတ္တုပြည်သို့ ပြောင်းမည်
အကြံရှိလျက်၊ ဗက်လင်မြို့နှင့်နီးသောခိမဟံရွာ
၁၇ သို့သွား၍ နေကြ၏။– အကြောင်းမူကား၊ ဗာဗုလုန်
ရှင်ဘုရင် ခန့်ထားသော
အဟိကံသားဂေဒလိကို နာသနိသားဣရှမေလ
သတ်သောကြောင့်၊ ခါလဒဲလူတို့ကို ကြောက်
ကြ၏။

၄၂

ထိုအခါကာရာသားယောဟနန်၊ ဟောရှာယ၏သား
ယေဇနိအစရှိသော တပ်မှူးရှိသမျှတို့နှင့်လူအ
ကြီးအငယ်အပေါင်းတို့သည် ပရောဖက်ယေရမိ
၂ ထံသို့ချဉ်းကပ်၍၊– အကျွန်ုပ်တို့သည်အထက်
၃ ကများသော်လည်း၊ ယခု ကိုယ်တော်မြင်သည့်
အတိုင်း အနည်းငယ်သာကျန်ကြွင်းပါသည်ဖြစ်
၍၊ အကျွန်ုပ်တို့အသနားတော်ခံသောစကားကို
မပယ်ပါနှင့်။ အကျွန်ုပ်တို့သွားရသောလမ်းနှင့်
ပြုရသောအမှုကိုကိုယ်တော်၏ဘုရားသခင်ထာ
ဝရဘုရားသည်အကျွန်ုပ်တို့အား ပြတော်မူမည်
အကြောင်း၊ ကျန်ကြွင်းသမျှသောသူ၊ အကျွန်ုပ်
တို့အဘို့ကိုယ်တော်၏ဘုရားသခင်ထာဝရဘုရား
ထံတော်၌ဆုတောင်းပေးပါလော့ဟု လျှောက်ကြ
၄ ၏။– ပရောဖက် ယေရမိကလည်း၊ ငါကြား၏။
သင်တို့ပြောသည့်အတိုင်း၊ သင်တို့၏ဘုရားသခင်
ထာဝရ ဘုရားအား ဆုတောင်းမည်။ ထာဝရ
ဘုရားသည်သင်တို့အား မိန့်တော်မူသမျှတို့ကို
ပြန်ပြောမည်။ အဘယ်အရာကိုမျှ မထိမ်မဝှက်
၅ ဟု ပြောဆို၏။– သူတို့ကလည်း၊ ကိုယ်တော်၏
ဘုရားသခင် ထာဝရဘုရား သည် ကိုယ်တော်
အားဖြင့် အကျွန်ုပ်တို့ကို မှာထားတော်မူသမျှ
အတိုင်း၊ အကျွန်ုပ်တို့သည် ပြုပါမည်ဟု၊ ထာ
ဝရဘုရားသည် အကျွန်ုပ်တို့၌ မှန်ကန်၍ သစ္စာ
စောင့်သောသက်သေဖြစ်တော်မူစေသတည်း။–
၆ အကျွန်ုပ်တို့သည် အကျွန်ုပ်ထို့၏ ဘုရားသခင်
ထာဝရဘုရား၏အမိန့်တော်ကိုနားထောင်သော
အခါ ချမ်းသာရပါမည်အကြောင်း၊ အကျွန်ုပ်တို့

သည်၊ ကိုယ်တော်ကိုစေလွှတ်ရာ ငါတို့၏ ဘုရားသခင်ထာဝရဘုရား၏ အမိန့်တော်သည် ကောင်းသည်ဖြစ်စေ၊ မကောင်းသည်ဖြစ်စေ၊ နားထောင်ပါမည်ဟု၊ ယေရမိအားပြောဆိုကြ၏။

၇ ထိုနောက်ဆယ်ရက်ကြာသောအခါ၊ ထာဝရ ဘုရား၏ နှုတ်ကပတ်တော်သည် ယေရမိသို့
၈ ရောက်လျှင်၊- ယေရမိသည် ကာရာသား ယောဟနန်မှစ၍၊ သူနှင့်ပါသမျှသောတပ်မှူးတို့နှင့် လူ အကြီး အငယ်အပေါင်းတို့ကို ခေါ်၍၊- သင်တို့ သည် ငါ့ကိုစေလွှတ်၍ အသနားတော်ခံသော ဣ
၉ သရေလ အမျိုး၏ ဘုရားသခင် ထာဝရဘုရား မိန့်တော်မူသည်ကား၊- အကယ်စင်စစ်သင်တို့
၁၀ သည်ဤပြည်၌နေလျှင်၊ ငါသည်သင်တို့ကို မဖြို မဖျက်၊ တည်ဆောက်မည်၊ သင်တို့ကို မနှုတ်၊ စိုက်ပျိုးမည်၊ ငါသည်သင်တို့၌ရောက်စေသော
၁၁ ထား၏ ဝါဒ်ကြောင့် နောင်တရ၏။- သင် တို့ ကြောက် တတ်သော ဗာဗုလုန် ရှင်ဘုရင် ကို မ ကြောက်ကြနှင့်၊ ထာဝရဘုရားမိန့်တော်မူသည် ကား၊ ထိုရှင်ဘုရင်ကိုမကြောက်ကြနှင့်၊ ငါသည် သင်တို့ကို ကယ်တင်၍၊ ထိုမင်း၏လက်မှ နှုတ်ယူ
၁၂ ခြင်းငှါ သင်တို့ထံ၌ရှိ၏။- သင်တို့ကိုငါကယ် မသနားသောအားဖြင့်၊ ထိုရှင်ဘုရင်သည် သင် တို့ကို သနား၍၊ နေရင်းပြည် သို့ ပြန် စေ ရလိမ့်
၁၃ မည်။- သို့မဟုတ်၊ သင်တို့က၊ ငါတို့သည်ဤပြည် ၌မနေ၊ ငါတို့ ဘုရားသခင် ထာဝရဘုရား ၏ အ
၁၄ မိန့်တော်ကို နား မထောင်ဘဲ၊- စစ်မှုကို မတွေ့မမြင်၊ တံပိုးမှုတ်သံကိုမကြား၊ မငတ်မမွတ်ရာအ ရပ်၊ အဲဂုတ္တုပြည်သို့သွား၍နေမည်ဟုဆိုလျှင်၊-
၁၅ ကျန် ကြွင်းသော ယုဒ အမျိုးသားတို့၊ ထာဝရ ဘုရား၏အမိန့်တော်ကို ကြားကြလော့၊ ဣသ ရေလအမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ် ခြေအရှင် ထာဝရဘုရား မိန့်တော်မူသည်ကား၊ သင်တို့သည်အဲဂုတ္တုပြည်သို့ သွားခြင်းငှါကြပ် ကြပ်ဂရုစိုက်လျက်၊ ထိုပြည်သို့အလှန်သွား၍
၁၆ အဦးမိုလျှင်၊- သင်တို့ကြောက်သောထားတော သည်အဲဂုတ္တုပြည်၌သင်တို့ကိုမှီလိမ့်မည်၊ သင် တို့ ကြောက် သော နှုတ် သိပ် ခြင်း ဘေး သည် လည်း၊ အဲဂုတ္တု ပြည်၌ သင် တို့ကို ကြပ်ကြပ် လိုက်၍၊ ထို ပြည်၌ သင် တို့ သည် သေ ကြလိမ့်
၁၇ မည်။- အဲဂုတ္တုပြည်သို့သွား၍တည်းမိုခြင်းငှါ စိတ်နှလုံးပြုသောသူအပေါင်းတို့သည်ထားဘေး နှုတ်သိပ်ခြင်းဘေး၊ ကာလနာဘေးတို့ဖြင့်သေ ကြလိမ့်မည်၊ သူတို့အပေါ်သို့ငါရောက်စေသော ဘေး ဝါဒ် နှင့် အဘယ်သူမျှ မ လွတ် ရ။ ကျန်
၁၈ ကြွင်းသော သူတယောက်မျှမရှိရ။- ဣသရေလ အမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ်ခြေ အ ရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊ ယေရု ရှလင်မြို့သားတို့အပေါ်သို့ငါ၏အမျက်ဒေါသကိုငါ သွန်း လောင်း သည်နည်းတူ၊ သင်တို့ သည် အဲ ဂုတ္တုပြည်သို့ ဝင်သောအခါ၊ သင်တို့အပေါ်သို့ သွန်းလောင်းသဖြင့်၊ သင်တို့သည် အဲရေးခြင်း၊ ထိတ်လန့်ခြင်း၊ ကျိန်ခြင်း၊ ကဲ့ရဲ့ခြင်းကို ခံရသော ဖြစ်ကြလိမ့်မည်၊ ဤအရပ်ကို နောက်တဖန် မ
၁၉ မြင်ရ။- ကျန်ကြွင်းသောယုဒအမျိုးသားတို့၊ အဲ ဂုတ္တုပြည်သို့မသွားကြနှင့်ဟု၊ သင်တို့အား ထာ ဝရဘုရား အမိန့်တော်ရှိ၏၊ ငါသည် သင်တို့ကို ယနေ့သတိပေးကြောင်းကိုသိမှတ်ကြလော့။-
၂၀ အကယ်စင်စစ်သင်တို့က၊ ငါတို့၏ဘုရား သခင် ထာဝရဘုရားအား ငါတို့အဘို့ ဆု တောင်းပါလော့၊ ငါတို့၏ ဘုရားသခင် ထာဝရဘုရား မိန့်တော်မူသမျှတို့ကို ကြားပြော ပါလော့၊ ငါတို့သည် နားထောင်ပါမည် ဟု ဆို၍၊ ငါ့ကို သင်တို့၏ ဘုရားသခင် ထာဝရ ဘုရား ထံတော်သို့ စေလွှတ် သော အခါ၊ ကိုယ်
၂၁ စိတ်ကို ကိုယ်လှည့်စားကြပြီ။- ငါသည်သင်တို့ အား ယနေ့ကြားပြော၏၊ သင်တို့မူကား၊ သင်တို့ ဘုရားသခင်ထာဝရဘုရား၏အမိန့်တော်ကိုင်၍ အားဖြင့် မှာထိုက်တော်မူသမျှ ထိုကိုင်နား
၂၂ ထောင်ဘဲ နေကြ၏။- ထိုကြောင့်၊ သင်တို့သည် သွား၍ တည်းမို ချင်သော အရပ်၌ ထားဘေး နှုတ်သိပ်ခြင်းဘေး၊ ကာလနာဘေးတို့ဖြင့်သေ ကြလိမ့်မည် အကြောင်းကို၊ အမှန် သိမှတ်ကြ လော့ဟု၊ ယေရမိသည်ပြန်ပြောလေ၏။

၄၃

ထို လူ များ တို့ ၏ ဘုရားသခင် ထာဝရဘုရား သည် ယေရမိအားဖြင့်မှာတော်မူသမျှသော အ မိန့် တော် တို့ကို၊ ယေရမိသည် လူ အပေါင်း တို့ အား အကုန် အစင် ကြား ပြော သည် မှီဆော်၊-
၂ ဟောရှဲယာ၏သား အာဇရိ နှင့် ကာရာသား ယောဟ နန် အစရှိသော၊ မာနထောင် လွှား သော လူ အ ပေါင်းတို့က၊ သင်သည်မုသာစကားကိုပြော၏၊ အဲဂုတ္တုပြည်သို့သွား၍မတည်းမိုရဟု၊ ငါတို့ ၏ ဘုရားသခင် ထာဝရ ဘုရား သည် သင့်အား
၃ ဖြင့်မှာထားတော်မမူ။- ခါထဲလူတို့လက်၌ငါတို့

ကိုသတ်၍ ဗာဗုလုန်မြို့သို့သိမ်းသွားစေမည်အ
ကြောင်း၊ သူတို့ထက်သို့ ငါတို့ကို အပ်လိုသော
ငှါ၊ နေရိသားဗာရုတ်သည် သင့်ကိုနှိုးဆော်တိုက်
၄ တွန်း၏ဟု ဆိုကြပြီးလျှင်၊- ကာရာသား ယော
ဟနန် အစ ရှိသော တပ်မှူး များနှင့် လူ များ အ
ပေါင်းတို့သည်၊ ယုဒပြည်၌နေရမည်ဟူသော၊ ထာ
ဝရဘုရား၏ အမိန့် တော်ကို နားမထောင် ဘဲ၊-
၅ အတိုင်းတိုင်း အပြည်ပြည်သို့နှင်ထုတ်ခြင်းကိုခံ
၆ ရပြီးမှ ယုဒပြည်၌ နေထိုင်သောငှါ ပြန် လာ သော
ယုဒ အမျိုးသား အကျန် အကြွင်း၊ ယောကျ်ား၊
မိန်းမ၊ သူငယ်၊ မင်းသမီးအစရှိသော၊ ကိုယ်ရံတော်
မှူးနေဗုဇာရဒန်သည် ရှာဖန်၏သားဖြစ်သောအ
ဟိကံ၏သားဂေဒလိ၌အပ်သောလူအပေါင်းတို့
ကို၎င်း၊ ပရောဖက်ယေရမိ၊ နေရိသား ဗာရုတ်ကို
၎င်း၊ ကာရာသား ယော ဟ နန် နှင့် တပ် မှူး အ
၇ ပေါင်း တို့သည် ယူ၍၊- ထာဝရဘုရား၏ အမိန့်
တော်ကိုနားမထောင်ဘဲ၊ အဲဂုတ္တုပြည်သို့ သွား
၍တာပနက်မြို့သို့ရောက်ကြ၏။
၈ တာပနက်မြို့၌ ထာဝရဘုရား၏ နှုတ်ကပတ်
တော်သည်ယေရမိသို့ရောက်တော်မူသည်ကား၊-
၉ သင်သည် ကြီးသော ကျောက်တို့ကို ကိုင်ယူ၍၊
တာပနက်မြို့၌ ဖာရောဘုရင်၏ အိမ်တော်ဝနား၊
မှာရှိသောအုတ်မိုးမြေ၌၊ ယုဒလူများရှေ့တွင်မြှုပ်
၁၀ ထားလော့။- သူတို့ အားထည်း၊ ဣသရေလအ
မျိုး၏ ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရား၊ မိန့်တော် မူသည်ကား၊ ငါသည်
လူကိုစေလွှတ်၍၊ ငါ၏ ကျွန် ဗာဗုလုန် ရှင်ဘုရင်
နေဗုခဒ်နေဇာကို ဆောင်ခဲ့ပြီးလျှင်၊ ငါမြှုပ်ထား
သောဤကျောက်တို့အပေါ်မှာ၊ သူ၏ရာဇပလ္လင်
ကိုငါတည်မည်။ သူသည်လည်း၊ မိမိတဲတော်ကို
၁၁ ဤကျောက်တို့အပေါ်မှာဖြန့်လိမ့်မည်။- ထိုမင်း
သည် ရောက်လာသောအခါ၊ အဲဂုတ္တုပြည်ကို
လုပ်ကြံ၍၊ သေတန်သော သူတို့ကို သေခြင်းသို့
၎င်း၊ သိမ်း သွား ချုပ် ထား တန် သော သူတို့ကို
သိမ်းသွား ချုပ်ထားခြင်းသို့၎င်း၊ ကွပ်မျက်တန်
သောသူတို့ကို ကွပ်မျက် ခြင်းသို့၎င်း အပ် လိမ့်
၁၂ မည်။- အဲဂုတ္တုဘုရားအိမ်တို့ကို ငါမီးရှို့မည်။
သူသည်လည်း၊ ထိုဘုရား တို့ ကို မီးရှို့၍ သိမ်း
သွား ချုပ်ထားလိမ့်မည်။ သိုးထိန်းသည် မိမိ
အဝတ်ကို ဝတ်သကဲ့သို့၊ ထိုမင်းသည် အဲဂုတ္တု
ပြည်ကိုဝတ်၍ငြိမ်ဝပ်စွာထွက်သွားလိမ့်မည်။-
၁၃ အဲဂုတ္တုပြည် ဗက်ရှေမက်မြို့၌၊ ရုပ်တုဆင်းတု
များကို ချိုးဖျက်၍၊ အဲဂုတ္တုဘုရားအိမ်များကို
မီးရှို့လိမ့်မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။

၄၄

၁ အဲဂုတ္တုပြည်၊ မိဂဒေါလမြို့၊ တာပနက်မြို့၊
နောဖမြို့၊ ပါသရုအရပ်၌ နေသော ယုဒ လူ အ
ပေါင်းတို့ကိုရည်မှတ်၍ ယေရမိသို့ ရောက်လာ
၂ သော နှုတ်ကပတ်တော် ထားခြင်း၊- ဣသရေလ
အမျိုး၏ဘုရားသခင်၊ ကောင်းကင် ဗိုလ်ခြေအ
ရှင် ထာဝရဘုရားမိန့်တော်မူသည်ကား၊ ယေရု
ရှလင်မြို့အစရှိသော ယုဒမြို့ရွာ အရပ်ရပ်တို့ အ
ပေါ်သို့ ငါရောက်စေသောဘေးဥပဒ်ကိုသင်တို့
၃ သည် မြင်ကြပြီ။- ကြည့်ရှုကြလော့၊ ယနေ့မှာ
ထိုမြို့ရွာ တို့သည်၊ နေသော သူမရှိ၊ လူဆိတ်ညံ
သောအရပ်ဖြစ်ကြ၏။ အကြောင်းမူကား၊ အရင်
နေသောသူတို့ သည် ကိုယ်တိုင် မသိ၊ ဘိုးဘေး
တို့မသိ၊ အခြား တပါး သော ဘုရား တို့ အား နံ့
သာပေါင်းကိုမီးရှို့၍ဝတ်ပြုသဖြင့်၊ငါ၏အမျက်
တော်ကို နှိုးဆော်ခြင်းငှါ ပြုကြသော ဒုစရိုက်
၄ ကြောင့် ဤအမှု ရောက် သ တည်း။- ငါ၏ကျွန်
ပရောဖက်အပေါင်းတို့ကို၊ ငါသည်စောစောထ၍
သင်တို့ရှိရာသို့ အထပ်ထပ် စေလွှတ်လျက်၊ ငါ
ရွံ့သောအမှု၊ ဤစက်ဆုပ်ရွံရှာဖွယ်သော အ
၅ မှုကိုမပြုပါနှင့်ဟုပြောသော်လည်း၊-သူတို့သည်
အခြား တပါးသော ဘုရားအား နံ့သာပေါင်းကို
မီးမရှို့၊ ဒုစရိုက်ကို ရှောင်မည် အကြောင်း နား
၆ ထောင်ခြင်းကိုမပြု၊ မနာမယူဘဲ နေကြ၏။- ထို
ကြောင့်၊ငါ၏အမျက်အမှန်ကိုငါသွန်းလောင်း
၍ ယုဒမြို့ရွာ၊ ယေရု ရှလင် လမ်းများ တို့၌ အ
မျက်မီးရှို့သဖြင့်၊ သူတို့သည်ယနေ့၌ ဖြစ်သကဲ့
သို့၊သုတ်သင်ပယ်ရှင်းရာအရပ်ဖြစ်ကြ၏။
၇ ယခုမှာဣသရေလအမျိုး၏ဘုရားသခင်၊ကောင်း
၀ ကင်ဗိုလ်ခြေအရှင်ဘုရားသခင်၊ ထာဝရဘုရား
မိန့်တော် မူ သည် ကား၊ သင်တို့သည် ကိုယ်ကို
ကိုယ် ပယ်ဖြတ်လိုသောငှါ၎င်း၊ မြေကြီးပေါ်မှာ
လူ အမျိုးမျိုး တို့ တွင် ကဲ့ရဲ့ ကျိန်ဆဲ ရာ ဖြစ် လို
သောငှါ၎င်း သွား၍ နေသော အဲဂုတ္တုပြည်၌
အခြားတပါးသော ဘုရားတို့အား နံ့သာပေါင်း
ကိုမီးရှို့လျက်၊ ကိုယ်တိုင် ပြုသောအမှုနှင့် ငါ၏
အမျက် ကို နှိုးဆော်သ ဖြင့်၊ သင်တို့ တွင် တ
ယောက် မျှ မကြွင်း၊ ယုဒအမျိုးယောကျ်ားမိန်းမ၊
သူငယ် နို့စို့ကလေး အပေါင်းတို့ကို ပယ် ဖြတ်
မည်အကြောင်း၊ ကြီးစွာသောဒုစရိုက်ကိုကိုယ်

မိတ်ဖိုညည် တမင်္ဂလာ ပြုမိသော ဒုစရိုက်များကို မေ့ကြသ
၉ နည်း။-ယုဒပြည်၌၎င်း၊ယေရုရှလင်လမ်းတို့၌၎င်း၊
သင်တို့ ဘိုးဘေးများ ပြုသော ဒုစရိုက်၊ ယုဒရှင်
ဘုရင်များပြုသောဒုစရိုက်၊ မိဖုရားများပြုသော
ဒုစရိုက်၊ သင်တို့ကိုယ်တိုင်ပြုသောဒုစရိုက်၊သင်
တို့ မယားများ ပြုသော ဒုစရိုက်တို့ကို မေ့လျော့
၁၀ ကြပြီလော။- ယနေ့တိုင်အောင်သူတို့သည် နှိမ့်
ချသောစိတ်မရှိ၊ ကြောက်ရွံ့သောစိတ်မရှိ၊ ငါ၏
တရားထုံးသို့မလိုက်၊ သင်တို့မှစ၍သင်တို့ဘိုး
ဘေးတို့ ရှေ့မှာ ငါထားသော ပညတ် များကို မ
၁၁ စောင့်ရှောက်ကြ။- သို့ဖြစ်၍၊ ဣသရေလအမျိုး
၏ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေအရှင် ထာ
ဝရဘုရား မိန့်တော်မူသည်ကား၊ သင်တို့ကို အ
ပြစ်ပေး၍ ယုဒ အမျိုးသား အပေါင်းတို့ကို ပယ်
၁၂ ဖြတ်ခြင်းငှါ ငါသည် မျက်နှာ ထား မည်။- အဲ
ဂုတ္တုပြည်သို့သွား၍တည်းခိုခြင်းငှါ မျက်နှာပြု
သော ယုဒအမျိုးသား အကျန် အကြွင်းတို့ကိုငါ
သည်ယူ၍၊ သူတို့သည်ထိုပြည်၌သေကြေပျက်
စီးကြလိမ့်မည်။ ထားဘေး၊ မွတ်သိပ်ခြင်းဘေး
ဖြင့် ပျက်စီး ခြင်းသို့၎င်း၊ အငယ်ဆုံး သော သူမှ
စ၍ အကြီးဆုံးသောသူတိုင်အောင် ထားဘေး၊
မွတ်သိပ်ခြင်းဘေးဖြင့် သေကြေပျက်စီးခြင်းသို့
၎င်းရောက်၍၊ ဆဲရေးခြင်း၊ အံ့ဩခြင်း၊ ကျိန်
၁၃ ခြင်း၊ ကဲ့ရဲ့ခြင်းကိုခံဖို့ရာဖြစ်ကြလိမ့်မည်။- ယေ
ရုရှလင်မြို့သားတို့ကိုထားဘေး၊ မွတ်သိပ်ခြင်း
ဘေး၊ ကာလနာဘေးတို့ဖြင့် ငါသည်ဒဏ်ပေး
သည်နည်းတူ၊အဲဂုတ္တုပြည်၌နေသောသူတို့ကို
၁၄ ငါသည်ဒဏ်ပေးသဖြင့်၊-အဲဂုတ္တုပြည်သို့သွား
၍တည်းခိုသော ယုဒအမျိုးသားအကျန်အကြွင်း
တို့သည် ယုဒပြည်သို့ပြန်၍နေချင်သော်လည်း၊
တယောက် မျှ ဘေး နှင့် မလွတ်ရ၊ တယောက်
မျှ မကျန် ကြွင်းရကြ။ ဘေး လွတ်သော သူသာ
လျှင်ပြန်ရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၁၅ ထိုအခါ မိမိမယားတို့ သည် အခြား သော
သောဘုရားအားနံ့သာပေါင်းနှင့်မီးရှို့ကြောင်း
ကို သိသော လူများ၊ အနား၌ ရပ်နေသော မိန်း
မများ၊ကြီးစွာသောအလုံးအရင်းတည်းဟူသော၊
အဲဂုတ္တု ပြည် ပါသရု အရပ် ၌ နေသော သူအ
ပေါင်း တို့ သည် ယေရမိ ကို ပြန် ပြောကြ သည်
၁၆ ကား၊-သင်သည်ထာဝရဘုရား၏နာမတော်ကို
အမှီပြု၍၊ ငါတို့အားဟောပြောသောစကားကို
၁၇ ငါတို့သည်နားမထောင်။- ငါတို့မှစ၍ ငါတို့ဘိုး
ဘေး၊ ရှင်ဘုရင်၊ မှူးမတ်တို့သည် ယုဒမြို့များ၊
ယေရုရှလင်လမ်းများ၌ပြုဘူးသကဲ့သို့၊ကောင်း
ကင် မိဖုရားအဖို့ နံ့သာပေါင်းကိုမီးရှို့၍၊ သွန်း
လောင်းရာပူဇော်သက္ကာကိုပြုခြင်းငှါ၊ ကိုယ်အ
လိုအလျောက် ဝိရင်သည်အတိုင်းဆက်ဆက်ပြု
မည်။အထက်က ဝစွာစားရကြ၏။ဘေးနှင့်လွတ်
၁၈ ၍ချမ်းသာစွာနေရကြ၏။- ကောင်းကင်မိဖုရား
အဖို့ နံ့သာပေါင်းကိုမီးမရှို့၊ သွန်းလောင်းရာပူ
ဇော်သက္ကာကိုမပြုဘဲနေပြန်သောအခါ၊ အခွင့်
ဆင်းရဲခြင်း၊ ထားဘေး၊ မွတ်သိပ်ခြင်းဘေးဖြင့်
၁၉ ပျက်စီးခြင်းသို့ ရောက်ကြ ပြီ။- ကောင်းကင် မိ
ဖုရားအဖို့နံ့သာပေါင်းကိုမီးရှို့၍၊ သွန်းလောင်း
ရာ ပူဇော် သက္ကာ ကို ပြု သော အခါ၊ ငါ တို့၏
ယောကျ်ားမပါဘဲ မုန့်ပြားတို့ကိုလုပ်၍၊ သွန်း
လောင်းရာ ပူဇော်သက္ကာ ပြုလျှက် ကိုးကွယ် သ
လောဟုပြန်ပြောကြ၏။
၂၀ ထိုသို့ပြန်ပြောသော ယောကျ်ားမိန်းမအပေါင်း
၂၁ တို့အား ယေရမိ ပြန်ပြောသည်ကား။- သင်တို့
မှစ၍သင်တို့ဘိုးဘေး၊ ရှင်ဘုရင်၊မှူးမတ်၊ပြည်သူ
ပြည် သား တို့ သည် ယုဒ မြို့များ၊ ယေရု ရှလင်
လမ်းများ၌ မီးရှို့သောနံ့သာပေါင်းကို ထာဝရ
ဘုရားသည်မအောက်မေ့၊ နှစ်လုံးမသွင်းဘဲ နေ
၂၂ တော်မူသလော။- သင်တို့ပြုသောဒုစရိုက်၊စက်
ဆုပ်ရွံရှာ ဖွယ်သော အမှုတို့ကို ထာဝရဘုရား
သည် သည်းခံတော်မမူနိုင်သောကြောင့်၊ သင်
တို့ပြည်သည်၊ယနေ့ဖြစ်သည်အတိုင်း၊ နေသော
သူမရှိ၊ လူဆိတ်ညံရာ၊ အံ့ဩ ဖွယ်ရာ၊ ကျိန်
၂၃ ဆဲရာ ဖြစ်လေပြီတကား။- သင်တို့သည် နံ့သာ
ပေါင်းကိုမီးရှို့၍ထာဝရဘုရားကိုပြစ်မှားသော
ကြောင့်၎င်း၊ ထာဝရဘုရား၏အမိန့်တော်ကိုနား
မထောင်၊ ထုံးဖွဲ့ချက်၊ သက်သေခံချက် ပညတ်
တရား တော်လမ်းသို့ မလိုက်သော ကြောင့်၎င်း၊
ဤဘေးသည်၊ ယနေ့၌ရှိသည်အတိုင်း၊သင်တို့၌
ရောက်လေပြီတကားဟုပြောဆို၏။
၂၄ ထိုမှတပါး မိန်းမအပေါင်းတို့နှင့်လူခပ်သိမ်းတို့အား
ယေရမိဟောပြောသည်ကား၊ အဲဂုတ္တုပြည်၌
ရှိသောယုဒလူအပေါင်းတို့၊ ထာဝရဘုရား၏အ
မိန့်တော်ကိုနားထောင်ကြလော့။- ဣသရေလ
အမျိုး၏ ဘုရားသခင်၊ ကောင်းကင် ဗိုလ်ခြေအ
ရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်တို့
နှင့်သင်တို့မယားတို့က၊ငါတို့သည်ကောင်းကင်
မိဖုရားအဖို့နံ့သာပေါင်းကိုမီးရှို့၍သွန်းလောင်း

ရာပူဇော်သကာပြုခြင်းငှါသစ္စာဂတိထားသည်
နှင့်အညီဆက်ဆက်ပြုမည်ဟု၊ နှုတ်နှင့်ပြော၍
ထက်နှင့်ပြုသည်အတိုင်း၊ သင်တို့သည် ကိုယ်
ထားသော သစ္စာ ဂတိကို ဆက်ဆက် စောင့်၍၊
သစ္စာဂတိထားသည်အတိုင်း ပြုကြလိမ့်မည်။-
၂၆ သို့ဖြစ်၍၊ အဲဂုတ္တုပြည်၌ နေသော ယုဒ လူအ
ပေါင်းတို့၊ ထာဝရဘုရား၏ အမိန့်တော်ကို နား
ထောင်ကြလော့။ ထာဝရဘုရားမိန့်တော်မူသည်
ကား၊ အရှင်ထာဝရဘုရား အသက်ရှင်တော်မူ
သည်ဟု၍၊ အဲဂုတ္တုပြည် တရှောက်လုံး၌
ယုဒလူတယောက်မျှ ငါ၏နာမကို မမြွက်မဆိုရ
မည်အကြောင်း၊ ငါသည် ကိုယ်မဟာနာမကို
၂၇ ထိုင်တည်၍ ကျိန်ဆို၏။- သူတို့ကို ကျေးဇူးပြု
ခြင်းငှါမဟုတ်၊ အပြစ်ပြုခြင်းငှါ ငါစောင့်သည်
ဖြစ်၍၊ အဲဂုတ္တုပြည်၌ရှိသောယုဒလူ အပေါင်း
တို့သည် ဆုံးရှုံးခြင်းသို့ မရောက်မှီ တိုင်အောင်
ထားနှင့်၊ ငတ်မွတ်ခြင်း ဘေးနှင့် ပျက်စီးကြ
၂၈ လိမ့်မည်။-သို့ရာတွင်၊ထားဘေးနှင့်လွတ်၍၊အဲ
ဂုတ္တုပြည်မှယုဒပြည်သို့ပြန်ရသောသူတို့သည်
နည်းကြလိမ့်မည်။ စကားတည်မည်၊ သူတို့
စကားတည်မည်ကို၊အဲဂုတ္တုပြည်၌တည်းခိုခြင်း
ငှါ သွားသော ယုဒလူအကျန် အကြွင်း တို့သည်
၂၉ သိကြလိမ့်မည်။- ဤအရပ်၌ သင်တို့ကို ငါဆုံး
၍၊ သင်တို့၌ အပြစ် ရောက် စေခြင်းငှါ စကား
သည် ဆက်ဆက်တည်လိမ့်မည်ဟု၊ သင်တို့သိ
မည်အကြောင်း၊ ငါပေးသော နိမိတ်လက္ခဏာ
၃၀ ဟူမူကား။- ယုဒရှင်ဘုရင်ဇေဒကိမင်းအသက်
ကိုရန်သူတည်းဟူသော ဗာဗုလုန် ရှင်ဘုရင် နေ
ဗုခဒ်နေဇာ မင်း၏ လက်သို့ ဇေဒကိ မင်းကို ငါ
အပ်သည်နည်းတူ၊ အဲဂုတ္တု ရှင်ဘုရင် ဖာရော
ဟောဖရာ အသက်ကို ရှာသော ရန်သူလက်သို့
ထိုမင်းကို ငါ အပ် မည်ဟု၊ ထာဝရ ဘုရား မိန့်
တော်မူ၏။

၄၅

၁ ယုဒရှင်ဘုရင်ယောရှိသားယောယကိမ်လက်
ထက်၊နေရိသားဗာရုတ်သည်၊ယေရမိမြွက်ဆို
သည် အတိုင်း၊ စကား တော် များကို စာ၌ ရေး
ထားသောနောက်၊ ပရောဖက်ယေရမိသည်ဗာ
ရုတ်အားဆင့်ဆိုရသော နှုတ်ကပတ်တော်ဟူမူ
၂-၃ ကား၊-ဗာရုတ်၊သင်က၊ငါသည်အမင်္ဂလာ
ရှိ၏။ ထာဝရဘုရားသည် ငါ ဝမ်းနည်းခြင်းအ
ကြောင်း၊ တပါး အပေါ်မှာ တပါးကို ထပ် ဆင့်
တော်မူသော့ကြောင့်၊ ငါသည် သက်သာ မရ။
ညည်းတွား၍ မိတ်ပျက်ပါပြီဟုဆိုသည်ဖြစ်၍၊
သင်သည် ဆင့်ဆိုရမည်မှာ၊ ဣသရေလအမျိုး
၏ဘုရားသခင် ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ငါဆောက်သောအရာကို ငါဖြိုဖျက်မည်။
ငါစိုက်သောအရာတည်းဟူသော၊ဤပြည်ကိုအ
၅ ကြွင်းမဲ့ငါနှုတ်ပြစ်မည်။-သင်သည်ကြီးမြတ်သော
အရာတို့ကိုကိုယ်အဖို့ရှာသလော၊မရှာနှင့်၊ အ
ကြောင်းမူကား၊ငါသည် ခပ်သိမ်းသောသတ္တဝါ
တို့အပေါ်သို့ ဘေး ရောက်စေမည်၊ သို့ရာတွင်၊
သင်ရောက်လေရာရာအရပ်တို့၌၊သင်၏အသက်
ကိုလက်ရဥစ္စာကဲ့သို့ သင့်အား ငါပေးမည်ဟု၊
ထာဝရဘုရားမိန့်တော်မူ၏။

၄၆

၁ တပါးအမျိုးတို့ကိုရည်မှတ်၍ ပရောဖက်ယေ
ရမိသို့ရောက်လာသောထာဝရဘုရား၏နှုတ်က
၂ ပတ်တော်တည်းဟူသော၊- ယုဒရှင်ဘုရင်ယော
ရှိသား ယောယကိမ်မင်း နန်းစံ လေး နှစ် တွင်၊
ကာခေမိတ်အရပ်၊ ဥဖရတ်မြစ်နား၌ တပ်ချ၍၊
ဗာဗုလုန် ရှင်ဘုရင် နေဗုခဒ်နေဇာလုပ်ကြံသော
အဲဂုတ္တု ရှင်ဘုရင် ဖာရောနေခေါ၏ စစ်သူရဲ၊ အဲ
ဂုတ္တုပြည်သားတို့ကိုရည်မှတ်သောနှုတ်ကပတ်
၃ တော်ဟူမူကား၊- ဗိုင်းလွှားတို့ကိုပြင်ဆင်၍၊စစ်
ထိုက်ခြင်းငှါချည်းကပ်ကြလော့။- မြင်းစီးသူရဲ
များတို့၊ မြင်းကို ကကြိုး တန်ဆာ ဆင်၍ စီး ကြီး
လျှင်၊သံခမောက်လုံးကိုဆောင်းလျက်ထွက်ကြ
လော့။လှံတို့ကိုပွတ်ကြလော့၊ သံချပ်အင်္ကျီတို့
၅ ကိုဝတ်ကြလော့။-သူတို့သည်ကြောက်လန့်၍ဆုတ်
သွားကြသည်ကို အဘယ် ကြောင့် ငါ မြင်ရသ
နည်း။ အားကြီးသောသူတို့သည် ရှုံးသဖြင့် ပြန်
၍မကြည့်ဘဲ၊အလျင်အမြန်ပြေးကြ၏။ပတ်လည်
အရပ်၌ဘေးရှိသည်ဟု၊ထာဝရဘုရားမိန့်တော်
၆ မူ၏။- လျင်မြန်သော သူကို မပြေးစေနှင့်၊ အား
ကြီးသောသူကိုမလွတ်စေနှင့်။ ဥဖရတ်မြစ်နား၊
မြောက်မျက်နှာ၌ထိမိ၍လဲကြလိမ့်မည်။- နိုထ
မြစ်ထသကဲ့သို့၎င်း၊ မြစ်ရေ စီးသကဲ့သို့၎င်း တက်
လာသော ဤသူကား အဘယ်သူနည်း။-အဲဂုတ္တု
ပြည်သည်နိုလမြစ်ထသကဲ့သို့၎င်း၊ မြစ်ရေစီးသ
ကဲ့သို့၎င်းတက်လာလျက်၊ ငါသည်ထ၍မြေကြီး
ကိုလွှမ်းမိုးမည်။ မြို့နှင့်တကွမြို့သားတို့ကိုဖျက်
၉ ဆီးမည်ဟု ပြောဆို၏။- မြင်းများတို့၊ တက်ကြ
လော့၊ရထားများတို့၊ယုန်းယုန်းမြည်ကြလော့။

ငါလှန်မည်။ သူ၏ အမျိုး အနွယ်၊ ညီအစ်ကို၊
အိမ်နီး ချင်း တို့သည် ပျက်စီး ၍၊ သူကိုယ် တိုင်
၁၁ လည်းပျောက်ရလိမ့်မည်။-သင်၌မိဘမရှိသော
သူငယ်တို့ကိုထားခဲ့လော့။ငါစောင့်မမည်။ သင်
၁၂ ၏ မုဆိုး မ တို့သည် ငါကို မှီလှုံ ကြစေ။- ထာဝရ
ဘုရား မိန့်တော် မူသည်ကား၊ ခွက်ဖလားကို မ
သောက် ထိုက် သော သူ တို့ သည် အ ကာ ဧ် ၍
သောက်ကြသည်မှန်လျှင်၊ သင်သည် အပြစ်ကို
မခံဘဲ ရှင်းရှင်း လွတ်ရမည်လော။ မလွတ်ဘဲ မ
၁၃ နေရ။စင်စစ်သောက်ရမည်။-ဗောဇရပြည်သည်
အံ့ဩြရာ၊ ကဲ့ရဲ့ ရာ၊ လူဆိတ်ညံ့ရာ၊ ကျိန်ဆဲရာ
ဖြစ်ရလိမ့်မည်။ သူ၏မြို့အလုံးစုံတို့သည်လည်း၊
အစဉ်သုတ်သင်ပယ်ရှင်းရာဖြစ်ရကြလိမ့်မည်
ဟု၊ ငါသည် ကိုယ်ကို တိုင်တည်၍ ကျိန်ဆိုပြီ
ဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၁၄ ထာဝရဘုရား ဖျော့ ကြော်တော် မူသံကို ငါ
ကြား၏။ သင်တို့သည် စည်းဝေး၍၊ ဧဒုံပြည်ကို
တိုက်ခြင်းငှါစစ်ပြင်၍လာကြလော့ဟု၊ တပါးအ
မျိုး သားတို့ထံသို့ သံတမန်ကို စေလွှတ် တော်မူ
၁၅ ပြီ။- တပါးအမျိုးသားတို့တွင် သင်သည်ယုတ်
မာ မည် အကြောင်း နှင့်၊ လူ တို့ တွင် အသရေ
ရှုတ်ချခြင်းကို ခံရမည် အကြောင်း ငါပြုမည်။-
၁၆ ကျောက်ကြား တို့၌ နေ၍ တောင် ထိပ်ကို မှီလှုံ
သောသူဖြစ်သောကြောင့်၊ သင်၏ကြောက်မက်
ဖွယ်သော အခြင်းအရာ၊ သင်၏မာနသည်သင့်
ကိုလှည့်စားပြီ။ သင်သည်ရှုထင်းတကဲ့သို့မြင့်
သောအရပ်၌ အသိုက်ကိုလုပ်သော်လည်း၊ ထို
အရပ်မှသင့်ကို ငါနှိမ့်ချမည်ဟု၊ ထာဝရဘုရား
၁၇ မိန့်တော်မူ၏။-ဧဒုံပြည်သည်အံ့ဩြရာဖြစ်၍၊
ရှောက် သွားသောသူတိုင်းအံ့ဩြကြလိမ့်မည်။
သူခံရသောဘေးဥပါတ်အပေါင်းတို့ကြောင့်ကဲ့
၁၈ ရဲ့သံကိုပြုကြလိမ့်မည်။- သောဒုံမြို့နှင့်ဂေါမော
ရမြို့မှ စ ၍ နီးစပ်သောမြို့တို့၏ပျက်စီးခြင်းကဲ့သို့
ဖြစ်၍၊ ဧဒုံပြည်၌အဘယ်သူမျှမနေရ။လူသားတ
စုံတယောက်မျှ နေရာမကျရဟု၊ ထာဝရဘုရား
၁၉ မိန့်တော်မူ၏။-ချင်္သေ့သည်ယော်ဒန်မြစ်၏ဂုဏ်
အသရေမှတက်သကဲ့သို့၊ ရန်သူသည်ကျောက်
နှင့် မြည့်စုံသော နေရာသို့ တက်သောအခါ၊ နေ
သောသူသည် ချက်ချင်း ပြေးမည်အကြောင်းကို
ငါပြုမည်။ ရွေးချယ်သောသူကိုလည်း၊ ဧဒုံပြည်
အပေါ်မှာငါခန့်ထားမည်။ငါနှင့်အဘယ်သူတူ
သနည်း။ ငါအချိန်ကိုအဘယ်သူချိန်းချက် မည်

နည်း။ အဘယ်မည်သောသိုးထိန်းသည်ငါ့ရှေ့မှာ
၂၀ ရပ်နိုင်သနည်း။-သို့ဖြစ်၍၊ထာဝရဘုရားသည်
ဧဒုံပြည်တဖက်၌ ကြံစည်တော် မူသော အကြံ၊
တေမန်ပြည်သားတို့တဖက်၌ ကြံစည် တော်မူ
သော အကြံအစည်တို့ကို နားထောင်ကြလော့။
အကယ်စင်စစ်ရန်သူသည်၊အားမရှိသောထိုသိုး
ငယ်တို့ကို လုရက်လိမ့်မည်။ အကယ်စင်စစ် သူတို့ရှိ
ရာသို့လာ၍၊ ကျက်စားရာအရပ်တို့ကို ဖျက်ဆီး
၂၁ လိမ့်မည်။-သူတို့ပြိုလဲသောအသံကြောင့်မြေကြီး
လှုပ်ရှား၏။ သူတို့အော်ဟစ်သော အသံကို ဧဒုံ
၂၂ ပင်လယ် တိုင် အောင် ကြား ရ ၏။- ရန်သူ သည်
တက်၍ရှုလင်းတကဲ့သို့ပျံလျက်၊ ဗောဇရမြို့ကို
အတောင် တို့နှင့် ဖြန့် မိုး လိမ့် မည်။ ထိုနေ့၌ ဧဒုံ
ပြည်သားသူရဲတို့၏စိတ်နှလုံးသည်၊ သားဖွား
ခြင်းဝေဒနာကို ခံရသောမိန်းမ၏စိတ်နှလုံးကဲ့သို့
ဖြစ်လိမ့်မည်။
၂၃ ဒမာသက် မြို့ ကို ရည်မှတ် သော စကား၊ ဟာမ
ကား၊ ဟာမတ်မြို့နှင့်အာပဒ်မြို့တို့သည်မကောင်း
သောသိတင်းကိုကြားသောကြောင့်၊ အရှက်ကွဲ
၍ စိတ်ပျက်လျက်ရှိကြ၏။ ပင်လယ်တိုင်အောင်
စိုးရိမ်စရာ ရှိသောကြောင့်၊ ငြိမ်ဝပ် ခြင်းသို့မ
၂၄ ရောက်နိုင်။- ဒမာသက်မြို့သည်အားလျော့ပြီ။
ပြေးအံ့သောငှါ ကိုယ်ကို လှည့် ပြီ။ တုန်လှုပ်
လျက်နေ၏။ ဒုက္ခဆင်းရဲကိုငင်၊ သားဖွားသော
မိန်းမခံရသကဲ့သို့၊ ပြင်းစွာသော ဝေဒနာကိုငင်ခံရ
၂၅ ၏။- အသရေရှိသောမြို့၊ ငါဝမ်းမြောက် စရာမြို့
သည် အဘယ်ကြောင့်မကျန်ကြွင်း ရသနည်း။-
၂၆ သို့ဖြစ်၍၊ ထိုမြို့သားလုလင်တို့သည်လမ်းမတို့၌
လဲ၍၊ ထိုနေ့တွင်စစ်သူရဲ အပေါင်း တို့သည် ဆုံး
၂၇ ရှုံးကြလိမ့်မည်။-ငါသည်လည်း၊ ဒမာသက်မြို့ရိုး
ကိုမီး ရှို့၍၊ ဗင်္ဟာဒဒ်၏နန်းတော်တို့ကို လောင်
စေမည်ဟု၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ
ဘုရားမိန့်တော်မူ၏။
၂၈ ဗာဗုလုန် ရှင်ဘုရင် နေဗုခဒ်နေဇာ လုပ် ကြံ
သော ကေဒါပြည်နှင့် ဟာဇော် နိုင်ငံတို့ကို ရည်
မှတ်၍ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထ
ကြလော့။ ကေဒါပြည်သို့သွား၍၊ အရှေ့မှုတ်နှာ
၂၉ အရပ်သားတို့ကိုလုယူကြလော့။-သူတို့တဲများ
နှင့်သိုးစုများကိုငင်၊ ကုလားကာများ၊ ဝတ်သုံးအ
ဆောင်များ၊ ကုလားအုတ်များကိုငင်သိမ်း၍ယူ
သွားရကြမည်။သူတို့ပတ်လည်၌ကြောက်လန့်
၃၀ စရာအကြောင်းကိုကျွေးကြော်ရကြမည်။-ထာ

ဝရဘုရားမိန့်တော်မူသည်ကား၊ တာဆော်ပြည်
သားတို့၊ဝေးရွာပြေးသွားကြလော့။နက်နဲသော
အရပ်တို့၌နေကြလော့။ဗာဗုလုန်ရှင်ဘုရင်နေဗု
ခဒ်နေဇာသည်သင်တို့ကိုရည်စောင်း၍ စီရင်မဉ်
ထု၊ သင်တို့တဘက်၌ကြံစည်သောအကြံအစည်
၃၁ ရှိ၏။– ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထ
ကြလော့၊ ငြိမ်ဝပ်စွာနေ၍စိုးရိမ်စရာမရှိသော
လူမျိုး၊ မြို့တံခါးနှင့် ကန့်လန့်ကျင်ကိုမသုံးတတ်၊
အပေါင်းအဖော်မရှိ၊ တခြားပါးနေတတ်သော လူ
၃၂ မျိုးနေရာသို့သွားကြလော့။-သူတို့ကုလားအုတ်
အစုရှိသော တိရိစ္ဆာန် အပေါင်း တို့သည် လုယူ
ရာဖြစ်ကြလိမ့်မည်။ပါးစုန်းကိုရိတ်တတ်သော
လူမျိုးကိုအရပ်ရပ်သို့ငါကွဲပြားစေမည်။ အရပ်
ရပ်တို့မှသူတို့၌ဘေးဥပါတ်ကိုငါရောက်စေမည်
၃၃ ထု၊ထာဝရဘုရားမိန့်တော်မူ၏။-ဟာဇော်ပြည်
သည်မြေခွေးနေရာ၊ လူဆိတ်ညံရာ အစည် ဖြစ်
၍၊အဘယ်သူမျှမနေရ။လူသားတစုံတယောက်
မျှနေရာမကျရ။
၃၄ ယုဒရှင်ဘုရင်ဇေဒကိမင်းနန်းစံစက၊ ဧလံပြည်
ကိုရည်မှတ်သော၊ ထာဝရဘုရား၏နှုတ်ကပတ်
တော် သည် ပရောဖက် ယေရမိ သို့ ရောက် လာ
၃၅ ၍၊– ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား
မိန့်တော်မူ သည် ကား၊ ဧလံ၏ လေး တည်းဟူ
သော၊ သူ၏အစွမ်းသတ္တိ အထွဋ်အမြတ်ကို ငါ
၃၆ ချိုးမဉ်၊-အရပ်လေးမျက်နှာတို့ကလေလေးမျိုး
ကိုဧလံပြည်သို့ငါဆောင်ခဲ့မည်။ ထိုလေတို့ရှေ့
မှာပြည်သားများကိုငါလွှင့်မည်။ထိုသို့နှင်ထုတ်
သောဧလံပြည်သားမရောက်သောတိုင်းနိုင်ငံတ
၃၇ စုမျှမရှိရ။-ဧလံပြည်သားတို့ကိုရန်သူတို့ရှေ့မှာ
၎င်၊သူတို့အသက်ကိုရှာသောလူတို့ရှေ့မှာ၎င် ငါ
ကြောက်လန့်စေ၍၊ ပြင်းစွာသော ငါ၏ အမျက်
တည်းဟူသော ဘေးဥပါတ်ကို သူတို့အပေါ်သို့
ရောက်စေမဉ်။ သူတို့ကိုမဖျက်ဆီးမှီတိုင်အောင်၊
သူတို့နောက်သို့ထားကိုလွှတ်လိုက်မည်ဟု၊ထာ
၃၈ ဝရဘုရားမိန့်တော်မူ၏။– ဧလံပြည်၌ငါ၏ပလ္လင်
ကို တည်ထား၍၊ ရှင်ဘုရင်နှင့် မင်းသားတို့ကို
သုတ်သင် ပယ် ရှင်းမည်ဟု၊ ထာဝရ ဘုရား မိန့်
၃၉ တော်မူ၏။– သို့ရာတွင်၊ သိမ်းသွား ခြင်းကို ခံရ
သော ဧလံ အမျိုးသား တို့ကို နောင် ကာလ၌ ငါ
ဆောင်ခဲ့ဦးမည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

၅၀

၁ ထာဝရဘုရားသည် ဗာဗုလုန် မြို့နှင့် ခါလဒဲ
ပြည်ကိုရည်မှတ်၍၊ပရောဖက်ယေရမိအားဖြင့်
၂ မိန့်တော်မူသောစကားဟူမူကား၊-လူမျိုးတို့တွင်
သိတင်းကြားပြောကြလော့။ ဖွက်၍ မထားဘဲ
အလံကိုထူ၍ ကြော်ညာကြလော့။ ကြားပြောရ
သောစကားဟူမူကား၊ ဗာဗုလုန်မြို့ကိုတိုက်ယူ
ကြပြီ။ ဗေလဘုရားသည်အရှက်ကွဲပြီ။ မေရော
ဒပ်ဘုရားသည်ကျိုးပြီ။ဗာဗုလုန်ရုပ်တုဆင်းတု
၃ တို့သည်အရှက်ကွဲ၍ ကျိုးပဲ့လျက်ရှိကြ၏။– လူ
တမျိုးသည် မြောက်မျက်နှာမှလာ၍ ဗာဗုလုန်
ပြည်ကို သုတ်သင်ပယ်ရှင်းလိမ့်မည်။ နေသော
သူမရှိရ။ လူနှင့်တိရိစ္ဆာန်တို့သည် အကုန်အစင်
ထွက်သွားကြလိမ့်မည်။
၄ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုကာ
လအခါ၌ဣသရေလ အမျိုးသားတို့သည် ယုဒအ
မျိုးသားတို့နှင့်ပေါင်းဖက်၍ လာကြလိမ့်မည်။
မျက်ရည် ကျ လျက်၊ ခရီး သွား လျက်၊ သူတို့၏
ဘုရားသခင် ထာဝရ ဘုရား ကို သွား၍ ရှာ ကြ
၅ လိမ့်မည်။– ဇိအုန်မြို့သို့မျက်နှာပြု၍လမ်းကိုရှာ
ကြလိမ့်မည်။ အစဉ်မမေ့လျော့ရသောပဋိညာဉ်
အားဖြင့်ထာဝရဘုရားထံတော်သို့ချည်းကပ်၍
၆ မိဿဟာယဖွဲ့ ကြလိမ့်မည်။– ငါ၏လူတို့သည်
ပျောက်သော သိုးဖြစ်ကြပြီ။ သိုးထိန်း တို့သည်
တောင်များပေါ်မှာလမ်းလွှဲစေကြပြီ။သူတို့သည်
တောင်တလုံးမှ တလုံးသို့ လမ်းလွဲသွား၍၊ ငြိမ်
၇ ဝပ်သော အရပ်ကို မေ့လျော့ ကြပြီ။– သူတို့ ကို
တွေ့ကြုံသမျှသောသူတို့သည် ကိုက်စားကြပြီ။
ရန်သူတို့က၊သူတို့သည်တရားသောငြိမ်ဝပ်ရာ၊
ဘိုးဘေးတို့ မြော်လင့်ရာ ထာဝရ ဘုရားကို ပြစ် မှား
သောကြောင့်၊ ငါတို့သည်ကိုက်စားသော်လည်း
မလွန်ကျူးဟုပြောဆိုကြပြီ။
၈ ဗာဗုလုန်မြို့ထဲကပြေးကြလော့။ ခါလဒဲပြည်
မှထွက်သွားကြလော့။ သိုးစုရှေ့၌သိုးထီးကဲ့သို့
၉ ပြုကြလော့။– အကြောင်းမူကား၊ မြောက်မျက်
နှာအရပ်၌ကြီးစွာသော တိုင်းနိုင်ငံသားအစုအ
ဝေးကို ငါနှိုးဆော်၍၊ ဗာဗုလုန် မြို့သို့ဆောင်ခဲ့
မည်။ သူတို့သည်မြို့တဘက်၌ တပ်ခင်းကျင်း၍
တိုက်ယူ ကြလိမ့် မည်။ သူတို့ ပြစ်သော မြှားတို့
သည် လိမ္မာသော စစ်သူရဲ၏ မြှားကဲ့သို့ ဖြစ်၍ မ
၁၀ မှန်ဘဲမနေရ။-ခါလဒဲပြည်သည်လုယူရာဖြစ်၍၊
လုယူသော သူတို့သည် ဝကြ လိမ့်မည်ဟု၊ ထာ
၁၁ ဝရဘုရားမိန့်တော်မူ၏။– ငါ အမွေကို ဖျက်ဆီး
သော သူတို့၊ သင်တို့ သည် ဝမ်း မြောက် ရွှင်

ထန်းကြပြီ။ ကျက်စားသောနွားမကဲ့သို့ ရုန်း ကြ
၁၂ ပြီ။ မြင်းထီးကဲ့သို့ဟီကြပြီ။- ထိုကြောင့်၊ သင်တို့
အမိသည်မိန်းမောတွေဝေလိမ့်မည်။ သင်တို့ကို
မွေး ဖွား သော သူ သည် အရှက် ကွဲ လိမ့် မည်။
ပြည် တကာ တို့ တွင် အယုတ် ဆုံး သော ပြည်၊
သုတ်သင် သော အရပ်၊ သွေ့ခြောက် သော လွင်
၁၃ ပြင် ဖြစ် ရ လိမ့်မည်။- ထာဝရဘုရား၏ အမျက်
တော် ကြောင့် နောက်တဖန် လူမနေရ။ ဆိတ်ညံ
သော အရပ် သက်သက် ဖြစ်ရလိမ့်မည်။ ဗာဗု
လုန် မြို့ နားမှာ ရှောက် သွား သော သူ တိုင်း အံ့
ဩ၍၊ သူ ခံရသော ဒဏ်ချက်ပါတ်ကို ထောက်
၁၄ လျက်၊ ကဲ့ရဲ့ သံ ကို ပြု ကြလိမ့်မည်။- ဗာဗုလုန်မြို့
ပတ်ထည်၌ တပ်ခင်းကျင်း ကြလော့။ သူသည်
ထာဝရဘုရားကိုပြစ်မှားသောကြောင့်၊လေးသ
မား အပေါင်း တို့၊ မြှားကို မနှစ် မြောဘဲ ပြစ်ကြ
၁၅ လော့။- မြို့ပတ်လည်၌ကြွေးကြော်ကြလော့။သူ
သည်ဝန်ချပြီ။ မြို့ရိုးနှင့်ပြအိုး တို့သည် ပြိုလဲကြ
ပြီ။ထာဝရဘုရား၏ အမျက်တော် ပြေခြင်းအမှု
ဖြစ် ၍၊ သူကို အပြစ် နှင့် အလျောက် စီ ရင် ကြ
လော့။ သူသည်ပြုဘူးသည်အတိုင်း သူ့၌ ပြုကြ
၁၆ လော့။- ဗာဗုလုန် မြို့၌ မျိုးစေ့ ကြဲသော သူ နှင့်
စပါး ရိတ် သော သူတို့ကို ပယ် ဖြတ် ကြ လော့။
ညှဉ်းဆဲ တတ် သော ထား ကို ကြောက် သော
ကြောင့်၊ အသီးအသီးတို့သည် မိမိတို့လူမျိုးနေ
ရာသို့ ပြန်သွား၍၊ မိမိတို့ ပြည်သို့ ပြေးကြ လိမ့်
မည်။

၁၇ ဣသရေလ သည် အရပ် ရပ် သို့ လွင့် ပြေး ရ
သောသိုးဖြစ်၏။ ခြင်္သေ့တို့သည်နှောင့်ရှက်ကြ
ပြီ။ အာရှုရိရှင်ဘုရင်သည် ရှေးဦးစွာကိုက်စား
ပြီ။ နောက်မှ ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာ
၁၈ သည်သူ၏ အရိုးတို့ကို ချိုးဖဲ့ပြီ။- ထိုကြောင့်၊ ဣ
သရေလအမျိုး၏ဘုရားသခင်၊ကောင်းကင်ဗိုလ်
ခြေအရှင် ထာဝရဘုရား မိန့်တော်မူသည်ကား၊
ငါသည် အာရှုရိ ရှင်ဘုရင်ကို ဒဏ် ပေးသည်
နည်းတူ၊ ဗာဗုလုန် ရှင် ဘုရင် နှင့် သူ၏ နိုင်ငံ ကို
၁၉ ဒဏ် ပေးမည်။- ဣသရေလကို သူ၏နေရင်းအ
ရပ်သို့ ငါဆောင်ခဲ့ဦးမည်။ သူသည် ကရမေလ
တောင်နှင့် ဗာရှန် တောင်ပေါ်မှာ ကျက်စား၍၊
ဧဖရိမ်တောင်နှင့် ဂိလဒ်တောင် ပေါ်မှာ ဝလိမ့်
၂၀ မည်။- ထိုကာလအခါ ဣသရေလအပြစ်ကိုစစ်
ကြောသော်လည်း၊အပြစ်မပေါ်ရာ။ ယုဒရ၏ ဒုစရိုက်
တို့ကိုရှာ၍ မတွေ့ရာ။ ငါချန်ထားသော သူတို့၏
အပြစ်ကို ငါဖြေရှင်းမည်ဟု၊ ထာဝရဘုရားမိန့်
တော်မူ၏။

၂၁ ဝုန်ကန်တတ်သောပြည်၊ဆုံးမအပ်သောပြည်
သားတို့ရှိရာသို့ စစ်ချီကြလော့။ သုတ်သင်ပယ်
ရှင်း၍သူတို့အမျိုးအနွယ်ကို အကုန်အစင်ဖျက်
ဆီး ကြ လော့။ ငါ မှာထားသမျှ အတိုင်း ပြုကြ
၂၂ လော့ဟု၊ထာဝရဘုရားမိန့်တော်မူ၏။-ထိုပြည်
၌စစ်တိုက်ခြင်းအသံ၊ကြီးစွာသောဖျက်ဆီးခြင်း
၂၃ အသံကိုကြားရ၏။- မြေတပြင်လုံးကိုရိုက်နှက်
သောသံတူသည်ကျိုးပြတ်လေပြီတကား။ဗာဗု
လုန်မြို့သည် လူမျိုးတို့တွင် အံ့ဩရာ ဖြစ်လေ
၂၄ ပြီတကား။-အိုဗာဗုလုန်မြို့၊သင့်အဖို့ကျော့ကွင်း
ကိုငါထောင်ထားသဖြင့်၊သင်သည်သတိမထား၍
ကျော့မိပြီ။ ထာဝရ ဘုရား၏ အာဏာတော်ကို
ဆန့်သော ကြောင့်၊ ရန်သူ တွေ့ ၍ တိုက်ယူပြီ။-
၂၅ ထာဝရဘုရား သည် လက်နက်စို တိုက်ဆော်ကို
ဖွင့် ၍၊ အမျက်တော်လက်နက်တို့ကိုထုတ်တော်
မူပြီ။ ဤအမှုကား၊ကောင်းကင်ဗိုလ်ခြေသခင်အ
ရှင်ထာဝရဘုရားသည် ခါလဒဲပြည်၌ပြုတော်မူ
၂၆ သောအမှုပေတည်း။- မြို့တဖက်မှ တဖက်တိုင်
အောင် တိုက် ကြလော့။ စပါးကျီ တို့ကို ဖွင့် ၍၊
စပါးပုံရှားကဲ့သို့ပုံထားလျက်၊ အလျှင်းမကြွင်း
၂၇ စေခြင်းငှါ ရှင်းရှင်းဖျက်ဆီးကြလော့။-သူ၏နွား
ဥသဘတရှိသမျှတို့ကိုသတ်ကြလော့။သတ်ရာအ
ရပ်သို့ဆင်းသွားစေကြလော့။သူတို့သည်အမင်္ဂ
လာရှိကြ၏။ အကယ်စင်စစ် သူတို့အမှိန်၊ ဆုံးမ
၂၈ ခြင်းကို ခံရသောအမှိန် ရောက်လေပြီ။- ငါတို့
ဘုရားသခင် ထာဝရ ဘုရား၏အမျက် တော်ဖြေ
ခြင်း၊ ဗိမာန် တော်ကို ဖျက်ဆီးသောအပြစ်နှင့်
အလျောက် ဒဏ်ပေးခြင်းသိတင်းကို ဇိအုန်မြို့
၌ ကြားပြောအံ့သောငှါ၊ ဗာဗုလုန်ပြည်မှ ပြေး
၂၉ လွတ်သောသူတို့၏အသံကိုကြားရ၏။- လေးသ
မား တို့ကို ဗာဗုလုန် မြို့သို့ ခေါ်ကြ လော့။ ပြစ်
တတ်သော သူ အပေါင်းတို့၊ မြို့ပတ်ဝန်းကျင် ၌
တပ်ချကြလော့။ မြို့သူမြို့သား တယောက်ကိုမျှ
မလွတ် စေနှင့်။ ထိုမြို့ကျင့်သော အကျင့် နှင့် အ
လျောက်အပြစ်ပေးကြလော့။ သူပြုဘူးသမျှအ
တိုင်းသူ့၌ပြုကြလော့။ သူသည် ဣသရေလအမျိုး
၏ သန့်ရှင်းတော်မူသောဘုရား၊ ထာဝရဘုရား
၃၀ တဖက်၌ ဝါကြွား ပြီ တကား။- ထိုကြောင့်၊ မြို့
သားလုလင်တို့သည် လမ်းမတို့၌ လဲနေ၍၊ ထို
နေ့တွင်စစ်သူရဲအပေါင်းတို့သည် ဆုံးရှုံးကြလိမ့်

၃၁ မည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။- ကောင်း
ကင်ဗိုလ်ခြေသခင်အရှင်ထာဝရဘုရားမိန့်တော်
မူသည်ကား၊အိုမာနကြီးသောသူ၊သင့်တဖက်၌
ငါနေ၏။ အကယ်စင်စစ်သင်၏အချိန်၊ ဆုံးမခြင်း
၃၂ ကို ခံ ရ သော အချိန် ရောက်လေပြီ။- မာန ကြီး
သောသူသည်ထိမိ၍လဲပြီးမှအထူ သူမျှမကြွ
ရ။ ငါသည်လည်း သူနေရာ မြို့တို့ကို မီး ရှို့၍၊ သူ
ပတ်ထည်၌ နေသော သူအပေါင်း တို့ကို လောင်
ထိမ့်မည်ဟုမိန့်တော်မူ၏။
၃၃ ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရားမိန့်
တော်မူသည်ကား၊ဣသရေလအမျိုးသားတို့နှင့်
ယုဒအမျိုးသားတို့သည် ညှဉ်းဆဲခြင်းကို
ခံရကြပြီ။သူတို့ကိုသိမ်းသွားသောသူရှိသမျှတို့
သည် ချုပ်ထားပြီးလျှင်၊ ငါတို့သည် မလွှတ်ဟု
၃၄ ငြင်းပယ်လျက် နေကြပြီ။- သို့ရာတွင်၊ သူတို့ကို
ရွေးနုတ်သောသခင်သည်အားကြီး၏။ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရားတည်းဟူသော
ဘွဲ့နာမရှိတော်မူ၏။ ထိုသခင်သည်သူတို့အမှုကို
ကြပ်တည်းစွာစောင့်၍၊ပြည်တော်ကိုငြိမ်ဝပ်စေ
လျက်၊ ဗာဗုလုန်မြို့သူ မြို့သားတို့ကို နှောင့်ရှက်
၃၅ လျက်ပြုတော်မူမည်။- ထာဝရဘုရား မိန့်တော်
မူသည်ကား၊ ထားဘေးသည် ခါလဒဲ ပြည်သူ၊
ဗာဗုလုန်မြို့သားတို့နှင့်တကွ မင်းများ၊ ပညာရှိ
၃၆ များအပေါ်သို့သင့်ရောက်လိမ့်မည်။-ထားဘေး
သည် မိစ္ဆာ ဆရာတို့ အပေါ်သို့ရောက်၍၊ သူတို့
သည် အရူး ဖြစ်ကြလိမ့်မည်။ ထားဘေးသည်
ထိုမြို့သားစစ်သူရဲ တို့အပေါ်သို့ရောက်၍၊ သူတို့
၃၇ သည် မိတ်ပျက်ကြလိမ့်မည်။- ထားဘေးသည်
မြင်းများ၊ရထားများ၊ မြို့ထဲမှာနေသောလူအမျိုး
မျိုး၊ရှိသမျှတို့ အပေါ်သို့ ရောက်၍၊ သူတို့သည်
မိန်းမကဲ့သို့ ဖြစ်ကြလိမ့်မည်။ ထားဘေးသည် မြို့
ဘဏ္ဍာအပေါ်သို့ ရောက်၍၊ ရန်သူတို့သည် လု
၃၈ ယူ ကြလိမ့်မည်။- ခန်းခြောက်ခြင်း ဘေးသည်
မြို့၏ ရေတို့ အပေါ်သို့ ရောက်၍ ခန်းခြောက်ကြ
လိမ့်မည်။ အကြောင်းမူကား၊ထိုပြည်သည်ရုပ်
တုတို့နှင့်အပြည့်ရှိ၏။ပြည်သားတို့သည် ဆင်း
၃၉ တုတို့ကို အမှီပြု၍ဝါကြွားကြ၏။- ထိုကြောင့်၊
တော သားရဲ တို့သည် တောခွေးတို့နှင့်တကွ ထို
မြို့၌နေကြလိမ့်မည်။ကုလားအုတ်ငှက်တို့သည်
ထည်းနေရာကျကြလိမ့်မည်။ နောက်တဖန် အခ
ထယ်သူမျှမနေရ။ ကာလ အစဉ်အဆက် လူနေ
၄၀ ရာမဖြစ်ရ။- သောဒုံမြို့နှင့်ဂေါမောရမြို့မှစ၍ နီး
စပ်သောမြို့များကိုဘုရားသခင်ဖျက်ဆီးတော်မူ
သဖြင့် လူ ဆိတ်ညံ သကဲ့သို့၊ ဗာဗုလုန် မြို့၌ အ
ထယ်သူမျှ မ နေရ၊ လူသားတစုံ တယောက် မျှ
နေရာမကျရဟု၊ထာဝရဘုရားမိန့်တော်မူ၏။
၄၁ ကြည့်ရှုလော့။ လူမျိုး တမျိုး သည် မြောက်
မျက်နှာမှလာ၏။ ကြီးစွာသော လူမျိုး နှင့် များ
စွာသော ရှင်ဘုရင် တို့သည် မြေကြီး စွန်း တို့မှ
၄၂ ပေါ်လာကြ၏။- လေးနှင့်လှံတို့ကိုလက်စွဲကြ၏။
ကြမ်းကြုတ်သောအမျိုးဖြစ်၍ သနားခြင်းကရု
ဏာမရှိ။သူတို့စကားသံသည် သမုဒ္ဒရာမြည်သံ
ကဲ့သို့ဟုန်းတတ်၏။ အိုဗာဗုလုန် သတို့သမီး၊စစ်
သူရဲ ကဲ့သို့တပ်ခင်းကျင်းလျက်မြင်းစီး၍၊သင်ရှိ
၄၃ ရာသို့ ချီလာကြလိမ့်မည်။- သူတို့၏သိတင်းကို
ဗာဗုလုန် ရှင်ဘုရင် သည် ကြား၍ လက်အား
လျော့၏။ ဒုက္ခဆင်းရဲ ကိုရှင်၊ သားဖွားသောမိန်း
မ ခံရသကဲ့သို့ပြင်းစွာသောဝေဒနာကိုရှင် ခံရ၏။-
၄၄ ခြင်္သေ့ သည် ယော်ဒန် မြစ် ၏ ဂုဏ် အသရေ မှ
တက်သကဲ့သို့၊ ရန်သူသည်ကျောက်နှင့်ပြည့်စုံ
သောနေရာသို့တက်သောအခါ၊ နေသောသူသဖြ
ချက်ချင်းပြေးမည်အကြောင်းကိုငါပြုမည်။ ရွေး
ချယ်သောသူကိုလည်းဗာဗုလုန်မြို့အပေါ်မှာငါ
ခန့်ထားမည်။ငါနှင့်အဘယ်သူတူသနည်း။ငါ့အ
ချိန်ကိုအဘယ်သူချိန်းချက်မည်နည်း။အဘယ်
မည်သော သိုးထိန်း သည် ငါ့ရှေ့မှာ ရပ်နိုင် ထံ
၄၅ နည်း။-သို့ဖြစ်၍၊ထာဝရဘုရားသည်ဗာဗုလုန်
မြို့တဖက်၌ ကြံစည်တော်မူသောအကြံ၊ ခါလဒဲ
ပြည်တဖက်၌ကြံစည်တော်မူသောအကြံအစည်
တို့ကိုနားထောင် ကြလော့။ အကယ် စင်စစ် ရန်
သူသည် အားမရှိသောထိုသိုးတို့ကိုလုရက်လိမ့်
မည်။ အကယ်စင်စစ်သူတို့ရှိရာသို့လာ၍၊ကျက်
၄၆ စားရာအရပ်ကိုဖျက်ဆီးလိမ့်မည်။- ဗာဗုလုန်
မြို့ကိုတိုက်ယူသော အသံကြောင့် မြေကြီးလှုပ်
ရှား၏။ အော်ဟစ်သောအသံကိုလူအမျိုးမျိုးတို့
သည်ကြားရကြ၏။

၅၁

၁ ထာဝရဘုရား မိန့်တော် မူသည်ကား၊ ဗာဗု
လုန် မြို့တဖက်၌၎င်း၊ ငါ၏ ရန်သူ တို့နှင့် ပေါင်း
ဖော် သော သူတို့ တဖက်၌၎င်း၊ ဖျက် ဆီး တတ်
၂ သောလေကိုငါထစေမည်။- စံကောနှင့်ပြာတတ်
သောသူတို့ကိုဗာဗုလုန်မြို့သို့ငါစေလွှတ်သဖြင့်၊
သူတို့သည်တပြည်လုံးကိုပြာ၍ရှင်းလင်းကြလိမ့်
မည်။အမှုရောက်သောကာလ၊သူတို့သည်မြို့ပတ်

ဝန်းကျင်ထို့၌ရန်အတက်ပြုလျက်နေကြလိမ့်မည်။-
၃ လေးကိုကိုင်သောသူ၊သံချပ်အင်္ကျီကိုဝတ်သော
သူတို့ကို လေးတင်၍ ပြစ်ကြ လော့။ မြို့သားလု
လင်တို့ကိုမနှစ်မြောဘဲ၊ မြို့သားအလုံးအရင်းရှိ
၄ သမျှတို့ကို ရှင်းရှင်းဖျက်ဆီးကြလော့။- ထိုသို့
သူရဲတို့သည်ခါလဒဲပြည်တွင်၊လမ်းမတို့၌လဲ၍
၅ အထိုးခံရကြလိမ့်မည်။- ဣသရေလအမျိုးနှင့်
ယုဒအမျိုးနေရာပြည်သည်၊ဣသရေလအမျိုး၏
သန့်ရှင်းတော်မူသော ဘုရားကို ပြစ်မှားသော
အပြစ်နှင့်ပြည့်သော်လည်း၊ သူတို့ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရဘုရားသည်
၆ ထိုအမျိုးတို့ကိုစွန့်ပြစ်တော်မမူ။-ဗာဗုလုန်မြို့ထဲ
ကထွက်ပြေး၍၊ အသီးအသီးကိုယ်အသက်ကို
ကယ်နုတ်ကြလော့။ မြို့သားတို့၏အပြစ်နှင့်ရော
၍ဆုံးရှုံးခြင်းကိုမခံကြနှင့်။ ဤအချိန်ကား၊ထာ
ဝရဘုရား၏အမျက်တော်ကို ဖြေချိန်ဖြစ်၍၊ အ
ကျိုးအပြစ်နှင့် အလျောက် စီရင်တော် မူမည်။-
၇ ဗာဗုလုန်မြို့သည်၊ ထာဝရဘုရားကိုင်တော်မူ၍
မြေကြီးတပြင်လုံးကို ယစ်မူးစေသောရွှေဖလား
ဖြစ်၏။ ထိုဖလား၌ပါသော စပျစ်ရည်ကို လူအ
၈ မျိုးမျိုးတို့သည်သောက်၍အရူးဖြစ်ကြ၏။- ဗာ
ဗုလုန်မြို့သည်ချက်ချင်းပြိုလဲ၍ပျက်စီးပြီ။ သူ၏
အတွက်ငိုကြွေးမြည်တမ်းကြလော့။ သူ၏အနာ
ပျောက်နိုင်လျှင်၊ ပျောက်စေခြင်းငှါ ဗာလစံဆေး
၉ ကိုယူကြလော့။- ငါတို့သည် ဗာဗုလုန်မြို့၏အ
နာကိုပျောက်စေခြင်းငှါပြုသော်လည်း၊ အနာမ
ပျောက်နိုင်။ သူကိုစွန့်ပြစ်၍၊ အသီးအသီးငါတို့
နေရင်းပြည်သို့ သွားကြကုန်အံ့။ သူခံရသောအ
ပြစ်သည် ကောင်းကင် တိုင်အောင် ရောက် ၍၊
၁၀ မိုဃ်းတိမ်ကို ထိလျက် ရှိ၏။- ထာဝရ ဘုရား
သည် ငါတို့ ဖြောင့်မတ်ကြောင်းကို ဖော်ပြတော်
မူပြီ။ လာကြလော့။ ငါတို့ဘုရားသခင် ထာဝရ
ဘုရား အမှုတော်ကို ဇိအုန်မြို့၌ ကြား ပြော ကြ
၁၁ ကုန်အံ့။- မြှားတို့ကိုပွတ်ကြလော့။ ဒိုင်းလွှားတို့
ကိုကိုင်စွဲကြလော့။ထာဝရဘုရားသည်မေဒိရှင်
ဘုရင်တို့ကို နိုးဆော်တော်မူပြီ။ ဗာဗုလုန်မြို့ကို
ဖျက်ဆီးမည် အကြံရှိတော်မူ၏။ အကြောင်းမူ
ကား၊ထာဝရဘုရား၏အမျက်တော်ကိုဖြေခြင်း၊
ဗိမာန် တော် ကို ဖျက်ဆီး သော အပြစ် နှင့် အ
၁၂ လျောက်ဒဏ်ပေးခြင်းအမှုဖြစ်သတည်း။- ဗာ
ဗုလုန်မြို့ရိုးရှေ့မှာအလံကိုထူကြလော့။ ဗျားစွာ
သောသူခစောင့်တို့ကိုထား၍ ကင်းထိုးကြလော့။

ချောင်းမြောင်းသော တပ် သား တို့ ကို ဖွင့် ကြ
လော့။ ထာဝရဘုရားသည်ဗာဗုလုန်မြို့သားတို့
ကိုခြိမ်းသည် အတိုင်း ကြံစည်၍ လက်စသတ်
တော်မူမည်။
၁၃ များစွာသောရေအနားမှာနေ၍စည်းစိမ်ကြွယ်
သောသူ၊သင်၏ဆုံးရှုံးချိန်၊ သင်၏လောဘအဆုံး
၁၄ ဖျက်ချိန်ရောက်လေပြီ။-ကောင်းကင်ဗိုလ်ခြေအ
ရှင်ထာဝရ ဘုရားသည် ကိုယ်ကို တိုင်တည်၍
ကျိန်ဆိုတော်မူသည်ကား၊ သင့်ကိုကျိုင်းကောင်
များနှင့်ပြည့်စေသကဲ့သို့လူများနှင့်ပြည့်စေမည်၊
သူတို့သည်သင့်တဘက်၌ ကြွေးကြော်သံကိုလွှင့်
၁၅ ကြလိမ့်မည်။-တန်ခိုးတော်အားဖြင့်မြေကြီးကို
ဖန်ဆင်းတော်မူပြီ။ ပညာတော်အားဖြင့် လော
ကဓာတ်ကိုတည်တော်မူပြီ။ ဉာဏ်တော်အား
၁၆ ဖြင့်မိုဃ်းကောင်းကင်ကိုကြက်တော်မူပြီ။- အ
သံတော်ကိုလွှတ်တော်မူ သော အခါ၊ မိုဃ်းရေ
အသံဗလံဖြစ်တတ်၏။မြေကြီးစွန်းမှမိုဃ်းတိမ်
ကိုတက်စေတော်မူ၏။ မိုဃ်းရွာသည်နှင့် လျှပ်
စစ်ပြက်စေတော်မူ၏။လေကိုလည်းဘဏ္ဍာတော်
၁၇ တိုက်ထဲကထုတ်တော်မူ၏။-လူမည်သည်ကား၊
မိမိဉာဏ်အားဖြင့်တိရိစ္ဆာန်ကဲ့သို့ဖြစ်၏။ ရုပ်
တုကိုသွန်းသော သူတိုင်း မိမိလုပ်သော ရုပ်တု
အားဖြင့် မှောက်မှားလျက် ရှိ၏။ အကြောင်းမူ
ကား၊သွန်းသောရုပ်တုသည်မုသာဖြစ်၏။ သူ၌
၁၈ သည်းတွက်သက်ဝင်သက်မရှိ။-ထိုသို့သောအ
ရာတို့သည် အချည်းနှီး သက်သက် ဖြစ်ကြ၏။
လှည့်စားသောအရာလည်းဖြစ်ကြ၏။စစ်ကြော
ခြင်းကို ခံရသည် ကာလ ကွယ် ပျောက် ကြလိမ့်
၁၉ မည်။- ယာကုပ်အမျိုး၏အဖို့ ဖြစ်သော ဘုရား
သည်ထိုသို့သောအရာနှင့်တူတော်မမူ။ခပ်သိမ်း
သောအရာတို့ကိုဖန်ဆင်းသောဘုရား ဖြစ်တော်
မူ၏။ ဣသရေလအမျိုးသည် အမွေခံတော်မူရာ
ဖြစ်၏။ နာမတော်သည်ကောင်းကင်ဗိုလ်ခြေအ
ရှင်ထာဝရဘုရားပေတည်း။
အိုသံတူကြီး၊သင်သည်ငါ၏စစ်တိုက်စရာလက်
နက်ဖြစ်၏။ သင့်ကိုငါကိုင်၍ အတိုင်းတိုင်းအ
၂၀ ပြည်ပြည်တို့ကိုချိုးဖဲ့ပြီ။- သင့်ကိုကိုင်၍ မြင်း
နှင့်မြင်းစီးသူရဲကိုဎင်၊ရထားနှင့်ရထားစီးသူရဲ
၂၁ ကိုဎင်ငါချိုးဖဲ့ပြီ။- သင့်ကို ကိုင်၍ ယောကျ်ား
နှင့် မိန်းမတို့ကိုဎင်၊ အသက် ကြီးသူ နှင့် အသက်
ငယ် သူတို့ကိုဎင်၊ လူပျိုနှင့် အပျိုမ တို့ကို ဎင် ငါ
၂၂ ချိုးဖဲ့ပြီ။- သင့်ကိုကိုင်၍သိုးထိန်းနှင့်သိုးစုကို

ငြိမ်းသက်သက်ဆိတ်ထုပ်သောသူနှင့်ကွဲ၊ ရှည်ကို ငြင်းမိုက်
၂၄ ရွာ။ နှင့်မင်းများကိုငါချိုးပဲ့ပြီ။- သို့ရာတွင်၊
ဗာဗုလုန်မြို့သား၊ ခါလဒဲပြည်သား အပေါင်းတို့
သည် ဇိအုန်မြို့၌ ပြုလေ သမျှ သော ဒုစရိုက်မှု
ထည်အတိုင်း၊ ငါသည်သင်တို့မျက်မှောက်၌ထို
သူတို့အား အပြစ် ပေး မည်ဟု၊ ထာဝရ ဘုရား မိန့်
တော်မူ၏။
၂၅ ထာဝရဘုရား မိန့်တော် မူသည်ကား၊၊ ဖျက်
ဆီးတတ်သောသဘောရှိ၍၊ မြေကြီးတပြင်လုံး
ကိုဖျက်ဆီးတတ်သောတောင်ကြီး၊ သင့်တဘက်၌
ငါနေ၏။ သင့်အပေါ်မှာငါ၏လက်ကိုဆန့်လျှက်၊
ကျောက်ထိပ်မှ သင့်ကို တွန်းချ၍၊ မီးနှင့် ကျွမ်း
၂၆ ဆောင်သောတောင်ဖြစ်စေမည်။-တိုက်ထောင့်
အထွဋ်ကျောက်၊ထိုက်မြစ်ကျောက်ထနံ့တစုကို
မျှ သင်၏အထဲက မနှုတ်မယူရ။ အစဉ်မပြတ်
ပျက်စီးလျှက်နေရလိမ့်မည်ဟု၊ထာဝရဘုရား၊မိန့်
တော်မူ၏။- ထိုပြည်၌အလံကိုထူကြလော့၊ အ
ပြည်ပြည်တို့၌ တံပိုးကိုမှုတ်၍၊ လူအမျိုးမျိုးတို့
ကို သူ၏တဘက်၌ ပြင်ဆင် ကြလော့၊ အာရရတ်
ပြည်၊မိန္နိပြည်၊အာရှကေနတ်ပြည်တို့ကိုသူ၏တ
ဘက်၌ စည်းဝေးစေကြလော့။ ဗိုလ်ချုပ်မင်းကို
ခန့်ထား၍၊ အမွေးကြမ်း သော ကျိုင်းကောင်ကဲ့
၂၈ သို့မြင်းစီးသူရဲတို့ကိုစစ်ချီစေကြလော့။- လူမျိုး
များတို့နှင့်တကွ၊ မေဒိရှင်ဘုရင်မှစ၍ ဗိုလ်များ၊
မင်းများ၊ မေဒိနိုင်ငံသား၊အပေါင်းတို့ကိုသူ၏တ
၂၉ ဘက်၌ပြင်ဆင်ကြလော့။- ဗာဗုလုန် ပြည်သည်
တုန်လှုပ်၍ ထိမ့် ထိမ့်မည်။ ထိုပြည်သည် နေသူ
မရှိ၊ သုတ်သင် ပယ်ရှင်းရာဖြစ်စေခြင်းငှါ၊ ထာ
ဝရဘုရားကြံစည်တော် မူသော အကြံအစည်ရှိ
၃၀ သမျှသည် ပြည့်စုံရလိမ့်မည်။- ဗာဗုလုန်စစ်သူ
ရဲတို့သည် စစ်မပြိုင်ဘဲ ရဲတိုက်များ၌ နေကြ၏၊
အားလျော့၍ မိန်းမကဲ့သို့ဖြစ်ကြ၏၊ မြို့သားနေရာ
၃၁ ထိုကိုမီးရှို့၍၊တံခါးကျင်တို့ကိုချိုးပဲ့ကြ၏။- ရန်
၃၂ သူတို့သည် မြို့တော်ကိုတဖက်တချက် တိုက်ဝင်
ကြပြီဟူ၍၎င်း၊ ထမ်းဝကို ပိတ်ထား၍ ရေကန်
နားမှာ မီး ရှို့ ကြောင်း နှင့်၊ စစ် သူရဲ တို့ သည်
ကြောက်ထန့်လျှက်ရှိကြပြီဟူ၍၎င်း၊ ဗာဗုလုန်
ရှင်ဘုရင်အား ကြားလျှောက်ဖို့သော်ငှါ၊ မင်း
လုလင်ချင်းတယောက်ကိုတယောက်၊ စေလွှတ်
သူချင်းတယောက်ကိုတယောက် တွေ့ကြုံလျှက်
၃၃ ပြေးသောကြ၏။- ဣသရေလ အမျိုး၏ ဘုရား
သခင်၊ ကောင်း ကင်ဗိုလ် ခြေ အ ရှင် ထာ ဝ ရ

ဘုရား မိန့်တော်မူသည်ကား၊ ဗာဗုလုန် သမီး
သည်းသည်စပါး၊နယ်ရသောကောက်နယ်တလင်း
ကဲ့သို့ဖြစ်၏။စပါးရိတ်ရာအချိန်နီးပြီ။
၃၄ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည် ငါတို့
ကိုကိုက်စား၍နှိပ်စက်ပါပြီ။ငါတို့ကိုအင်းထင်း
သောအိုးဖြစ်စေပါပြီ။နဂါးမြွေတတ်သကဲ့သို့ငါ
တို့ကိုမျို၍၊ ငါတို့ပျော်မွေ့စရာ အရာတို့နှင့် မိမိ
ဝမ်းကိုပြည့်စေပါပြီ၊ ငါတို့ကိုနှင်ထုတ်ပါပြီ။-
၃၅ ဇိအုန်မြို့သူက၊ ငါ၏ကိုယ်နှင့် ငါ၏အသား၌ပြု
သော အနှိပ်အစက်သည် ဗာဗုလုန်မြို့ အပေါ်သို့
ရောက်ပါစေဟူ၍၎င်း၊ ယေရုရှလင်မြို့ကသည်၊
ငါ၏ အသွေးသည် ခါလဒဲပြည်သားတို့အပေါ်
၃၆ သို့ရောက်ပါစေဟူ၍၎င်းဆိုရ၏။-ထို့ကြောင့်၊ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သင်၏အမှုကို
ငါဆောင်မည်။ သင် ခံရသော အပြစ်ကို ပြန်ပေး
မည်။ သူ၏ ပင်လယ် ကို၎င်း၊ သူ၏ စမ်းရေတွင်း
၃၇ တို့ကို၎င်း ငါခန်းခြောက်စေမည်။- ဗာဗုလုန်မြို့
သည် အမှိုက်ပုံ၊ မြေခွေးနေရာတွင်း၊ ထိတ်လန့်စရာ
ကွယ်ရာ၊ကဲ့ရဲ့သံပြုရာ၊ လူဆိတ်ညံ့ရာအရပ်ဖြစ်
၃၈ လိမ့်မည်။-ထာဝရဘုရားမိန့်တော်မူသည်ကား၊
မြို့သားတို့သည် ခြင်္သေ့ကဲ့သို့ ဟောက်သောအ
သံ၊ ခြင်္သေ့သငယ်ကဲ့သို့ မြည်သော အသံကိုထ
၃၉ ညီတည်း ပြုကြလိမ့်မည်။- သူတို့သည်ပျော်မွေ့
ကြမည်အကြောင်းနှင့်၊နောက်တဖန်မနိုးဘဲ၊အ
စဉ် မပြတ် အိပ် ပျော် မည် အကြောင်း၊ သူ တို့
သည် ရှင်ထန်း အားကြီး သော အခါ၊ သောက်
၄၀ စရာတို့ငါတိုက်၍ ထစ်မူးစေမည်။- အသေသတ်
ခြင်းငှါဆွဲ၍ ချသော သိုးသငယ်ကိုကဲ့သို့၎င်း၊ သိုး
ထီး၊ဆိတ်ထီးကိုကဲ့သို့၎င်းငါဆွဲ၍ချမည်။
၄၁ ရှေရှက်မြို့ကို တိုက်၍ ရလေ ပြီတကား၊ မြေ
တပြင်လုံး၌ ကျော်စောသော မြို့ကို လုယူ လေ ပြီ
တကား၊ ဗာဗုလုန်မြို့သည် အပြည်ပြည်တို့တွင်
၄၂ ထိတ်လန့်ရာဖြစ်လေ ပြီတကား။- ပင်လယ်သည်
ဗာဗုလုန်ပြည်အပေါ်သို့တက်၍၊ များစွာသော
၄၃ လှိုင်းတံပိုး၊ တို့သည် လွှမ်းမိုးကြပြီ။- မြို့များတို့
သည် သုတ်သင်ပယ်ရှင်းရာ အရပ်၊ ခြောက်ခြောက်
သော လွင်ပြင်ဖြစ်ကြ ပြီ၊ အထဲ၌သူမျှ မနေရ၊
လူသား၊တစုံတယောက်မျှ ထိုထမ်းကို မရှောက်
၄၄ ရ။- ဗာဗုလုန်မြို့၌ဗေလဘုရားကိုငါးသည်
စီရင်ပေးမည်၊သူမျိုသောအရာတို့ကိုတဖန်အန်
စေမည်၊ လူအမျိုးမျိုးတို့သည် နောက် တဖန်သူ
ထံမှာမစည်းဝေးရကြ၊ မြို့ရိုးသည်ပြိုလဲလျှက်

၄၅ ရှိရလိမ့်မည်။- ငါ၏လူတို့၊ ဗာဗုလုန်မြို့ထဲက
ထွက်ကြလော့။ ထာဝရဘုရား၏ ပြင်းစွာသော
အမျက်တော်မှ၊ အသီးအသီး ကိုယ်အသက်ကို
၄၆ ကယ်နှုတ်ကြလော့။-ထိုပြည်၌ကြားရသောသိ
တင်းကြောင့် စိတ်မပျက်၊ ကြောက်လန့်ခြင်းမရှိ
ကြနှင့်။ တနှစ်ထက်တနှစ် သိတင်းကြားရလိမ့်
မည်။ မင်းချင်းတယောက်ကိုတယောက်လုယူ၍
ညှဉ်းဆဲခြင်းအမှုရှိရလိမ့်မည်။
၄၇ ထိုနောက်မှဗာဗုလုန်မြို့၌ထုလုပ်သောရုပ်တု
ဆင်းတုတို့ကိုငါသည် ဒဏ်ပေးသဖြင့်၊ တပြည်
လုံးမိန်းမောတွေဝေ၍၊ သူ၏အပေါင်းတို့သည်
မြို့ထဲမှာ ထိခိုက် သေကြသော အချိန် ရောက်
၄၈ လိမ့်မည်။- ထိုသို့ဖြောက်ဖျက်နှာအရပ်က လု
ယူသောသူတို့သည် ဗာဗုလုန်မြို့သို့ ရောက်လာ
သောအခါ၊ မိုးကောင်းကင်မြေကြီး၌ အရပ်ရပ်၌ ရှိသမျှ
တို့သည် ရွှင်လန်းသောအသံကိုပြုကြလိမ့်မည်
၄၉ ဟု၊ ထာဝရဘုရား မိန့်တော်မူ၏။- ဗာဗုလုန်မြို့
ကြောင့် ဣသရေလ အမျိုးသူရဲ တို့သည် လဲ၍
သေသကဲ့သို့၊ ဗာဗုလုန်မြို့ထဲမှာ ပြည်သားသူရဲ
၅၀ အပေါင်းတို့သည်လဲ၍သေကြလိမ့်မည်။-ထား
ဘေးနှင့် လွတ်သောသူတို့၊ သွားကြလော့။ ရပ်
၍မနေကြနှင့်။ ဝေးသောအရပ်၌ထာဝရဘုရား
ကိုအောက်မေ့၍၊ ယေရုရှလင်မြို့ကိုလည်း စိတ်
၅၁ စွဲထားကြလော့။-ငါတို့သည်ကဲ့ရဲ့သောအသံကို
ကြားသောကြောင့် အရှက်ကွဲလျက်၊ မျက်နှာ
ပျက်လျက် နေရကြပါ၏။ တပါးအမျိုးသားတို့
သည်မိတ်မှန်တော်တွင်၊ သန့်ရှင်းရာအရပ်ဌာန
၅၂ တော်တို့၏အထဲသို့ဝင်ကြပါပြီ။- သို့ဖြစ်၍၊ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ဗာဗုလုန်ပြည်
ကိုးကွယ်သော ရုပ်တု ဆင်းတု တို့ကို ငါ သည်
ဒဏ်ပေး၍၊တပြည်လုံး၌ဒဏ်ချက်ထိသောသူ
တို့သည်ညည်းတွားကြသောအချိန်ရောက်လိမ့်
၅၃ မည်။- ဗာဗုလုန်မြို့သည် မိုဃ်းကောင်းကင်သို့
တက်၍၊ မြို့ရိုးအထွဋ်ကို ခိုင်ခံ့စွာ တည် သော်
လည်း၊ ငါ စေလွှတ် ၍ လုယူ သော သူတို့ သည်
သူ့ရှိရာသို့ ရောက် ကြ လိမ့် မည် ဟု၊ ထာဝရ
၅၄ ဘုရားမိန့်တော်မူ၏။-ဗာဗုလုန်မြို့မှာငိုကြွေးသံ
ကိုငင်၊ ခါလဒဲပြည်မှာ ပြင်းစွာသောပျက်စီးသံ
၅၅ ကိုငင် ကြားရ၏။- အကြောင်းမူကား၊ ထာဝရ
ဘုရားသည် ဗာဗုလုန် မြို့ကို ဖျက်ဆီး၍၊ သူပြု
တတ်သောအသံကြီးကိုငြိမ်းစေတော်မူ၏။ သူ၏
လှိုင်း တံပိုး တို့ သည် အားကြီး သော ရေ ကဲ့သို့
ထုန်းထုန်းမြည်သဖြင့်၊ကြီးစွာသောအသံမထံ
၅၆ ကိုပြုတတ်ကြ၏။- ဗာဗုလုန်မြို့ကိုတိုက်ဖျက်လု
ယူသောသူသည် ရောက်လျှင်၊ မြို့သား စစ်သူရဲ
တို့သည် ရန်သူတို့ လက်သို့ ရောက်၍၊ သူတို့ ကိုင်
ကိုင်သော လေး ရှိသမျှတို့သည် ကျိုးကြ၏။ အ
ကျိုးအပြစ်ကိုပေးတတ်သောဘုရားသခင် ထာ
၅၇ ဝရဘုရားသည်ဆက်ဆက်ပေးတော်မူပြီ။- ဗာ
ဗုလုန်မင်းသား၊ တိုင်ပင်မှူးမတ်၊ စစ်ကဲ၊ မင်းအ
ရာရှိ၊ ခွန်အားကြီးသောသူတို့ကိုငါယစ်မူးစေသ
ဖြင့်၊ သူတို့သည်နောက်တဖန်မနိုးဘဲ အစဉ်မ
ပြတ်အိပ်ပျော်ကြလိမ့်မည်ဟု၊ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားဟူ၍ဘွဲ့နာမရှိသောရှင်
၅၈ ဘုရင်မိန့်တော်မူ၏။-ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရား မိန့် တော် မူ သည် ကား၊ ဗုကြီး
သော ဗာဗုလုန် မြို့ရိုးတို့ကို အကုန်အစင် ဖြိုဖျက်
၍၊ မြင့်သောမြို့တံခါးတို့ကိုလည်း မီးရှို့ကြလိမ့်
မည်။ လူ အမျိုးမျိုး တို့ သည် အချည်းနှီး လုပ်
ဆောင်၍၊မီး၌ပင်ပန်းခြင်းကိုခံရကြပြီ။
၅၉ ဗာဗုလုန်မြို့အပေါ်မှာရောက်လတံ့သောဘေး
ဥပါတ်အပေါင်းတည်းဟူသော၊ ဗာဗုလုန်မြို့ကို
ရည်မှတ်၍ရေးထားသော ဤစကားအလုံးစုံတို့
၆၀ ကိုပရောဖက်ယေရမိသည်ရေးကူး၍၊- ယုဒရှင်
ဘုရင် ဇေဒကိနန်းစံလေးနှစ်တွင်၊ ရှင်ဘုရင်နှင့်
အတူ ဗာဗုလုန်မြို့သို့ လိုက်သွားသော၊ မာသေ
ယာ၏သား ဖြစ်သော နေရိ၏သား အတွင်းဝန် စ
၆၁ ရာယကိုမှာထားသော စကားဟူမူကား၊- သင်
သည် ဗာဗုလုန်မြို့သို့ရောက်သောအခါ၊ ဤစကား
၆၂ အလုံးစုံတို့ကို ကြည့်ရှု၍ ဖတ်ရမည်။- ထိုအခါ
သင်က၊ အို ထာဝရဘုရား၊ ကိုယ်တော် သည်
ဤအရပ်၌ လူမရှိ၊ တိရစ္ဆာန်မရှိ၊ အစဉ်မပြတ်
ဆိတ်ညံရာ အရပ်ဖြစ်စေ၍၊ သုတ်သင် ပယ်ရှင်း
မည်အကြောင်းကို မြွက်တော်မူပြီဟု လျှောက်
၆၃ ဆိုရမည်။- ဤစာကိုအကုန်အစင် ဖတ်ပြီးလျှင်၊
စာပေါ်မှာကျောက်ကိုချည်ထား၍၊ ဥဖရတ်မြစ်
၆၄ အလယ်မှာချပြစ်လျက်၊- ဗာဗုလုန်မြို့သည်ဤသို့
နစ်ရလိမ့်မည်။ ငါရောက်စေသောဘေးဥပါတ်
ထဲကနောက်တဖန်မထမြောက်ရ။ မြို့သူမြို့သား
တို့သည်အားကုန်လျက်နေရကြလိမ့်မည်ဟု၊ မြွက်
ဆိုရမည် အကြောင်းကို၊ ယေရမိသည်မှာထား
လေ၏။ ဤမျှကား၊ယေရမိစကားပေတည်း။

၅၂

၁ ဇေဒကိမင်းသည် အသက်နှစ်ဆယ်တနှစ် ရှိ

တော်၊ နန်းထိုင်၍ ယေရုရှလင်မြို့၌ တဆယ်တ
နှစ်နှစ်စံလေ၏၊ မယ်တော်ကား၊ လိဗနမြို့သူယေ
၂ ရမိသမီးဟာမုတလဖြစ်သတည်း။- ထိုမင်းသည်
ယော ယ ကိမ် မင်း ပြု သ မျှ အတိုင်း၊ ထာ ဝ ရ
၃ ဘုရား၊ ရှေ့တော် ၌ ဒုစရိုက်ကို ပြု၏။- ထာဝရ
ဘုရားသည် ယုဒပြည်သူ၊ ယေရု ရှလင် မြို့သား
ထိုကိုအထံတော်မှ မနှင်ထုတ်မှီတိုင်အောင် အ
မျက်ထွက် တော် မူ၍၊ ဇေဒကိမင်းသည် ဗာဗု
လုန်ရှင်ဘုရင်ကိုပုန်ကန်လေ၏။
၄ ဇေဒကိမင်းနန်းစံကိုးနှစ်၊ ဒသမလ ဆယ်ရက်
နေ့ တွင်၊ ဗာဗုလုန်ရှင်ဘုရင်နေဗုခဒ်နေဇာသည်
မိမိစစ်ခြေ အပေါင်းတို့နှင့်တကွ ယေရုရှလင်မြို့သို့
စစ်ချီသဖြင့်၊ မြို့ပတ်လည်၌တပ်ချ၍ မြေကတုပ်
၅ ထိုကိုလုံးလုပ်ပြီးမှ၊- ဇေဒကိမင်းနန်းစံတဆယ်
၆ တနှစ်တိုင်အောင်မြို့ကိုဝိုင်းထားလေ၏။- ထိုနှစ်၊
စတုတ္ထလ ကိုးရက်နေ့တွင်၊ မြို့ထဲမှာ အစာနှ်အ
စာအာဟာရခေါင်းပါးသဖြင့်၊ မြို့သူ မြို့သားတို့
၇ ထည့်စားစရာမရှိသောအခါ၊- ခါလဒဲလူတို့သည်
မြို့ရိုးကို ဖြိုဖောက်၍၊ မြို့ကိုလည်း ဝိုင်းနေသော
ကြောင့်၊ မြို့သားစစ်သူရဲအပေါင်းတို့သည်ညည့်
အခါ ပြေး၍၊ မြို့ရိုး နှစ်ထပ် စပ် ကြား၊ ဥယျာဉ်
တော်နား တံခါး၀ ဖြင့် ထွက်ပြီးမှ လွင်ပြင် သို့
၈ လွှားကြ၏။- ခါလဒဲစစ်သူရဲတို့သည် ရှင်ဘုရင်
ဇေဒကိကိုလိုက်၍၊ယေရိခေါလွင်ပြင်၌မှီသဖြင့်
ဇေဒကိ မင်း၏ စစ် သူရဲ အပေါင်း တို့သည် လွင့်
ပြေးကြ၏။- ရန်သူတို့သည်ရှင်ဘုရင်ကိုဖမ်းဆီး
၍၊ ဗာဗုလုန် ရှင်ဘုရင်ရှိရာ ဟာမတ်ပြည်ရိဗ
လမြို့သို့ဆောင်သွားကြ၏၊ ဗာဗုလုန် ရှင်ဘုရင်
၁၀ သည်ဇေဒကိ၏အမှုကို စစ်ကြောစီရင်၍၊- ဇေဒ
ကိမင်း၏သားတို့ကိုအဖမျက်မှောက်၌သတ်လေ
၏။ရိဗလမြို့မှာယုဒမှူးမတ်အပေါင်းတို့ကိုလည်း
၁၁ သတ်လေ၏။- ဇေဒကိ မျက်စိကိုလည်း ဖောက်
ပြီးမှ၊သူကိုကြေးဝါကြိုးနှင့်ချည်နှောင်၍၊ ဗာဗု
လုန်မြို့သို့ယူသွားသဖြင့်၊ သေသည်တိုင်အောင်
ထောင်ထဲမှာလှောင်ထားလေ၏။
၁၂ ဗာဗုလုန် ရှင်ဘုရင် နေဗုခဒ် နေဇာ နန်းစံ တ
ဆယ်ကိုးနှစ်၊ ပဉ္စမလ ဆယ်ရက်နေ့တွင်၊ အမှု
တော်ထမ်းကိုယ်ရံတော်မှူး နေဗုဇာရဒန် သည်
၁၃ ယေရုရှလင်မြို့ သို့ လာ၍၊- ဗိမာန်တော်၊ နန်း
တော်၊ မင်းအိမ်၊ဆင်းရဲသားအိမ် ရှိသမျှတို့ကို
၁၄ မီးရှို့လေ၏။- ကိုယ်ရံတော်မှူး၌ပါသောခါလဒဲ
စစ်သူရဲအပေါင်းတို့သည်ယေရုရှလင်မြို့ရိုးရှိသ

၁၅ မျှတို့ကို ဖြိုဖျက်ကြ၏။- ထိုအခါ ကိုယ်ရံတော်
မှူးနေဗုဇာရဒန်သည် မြို့ထဲမှာကျန်ကြွင်းသော
ဆင်းရဲသား၊ ဗာဗုလုန် ရှင်ဘုရင် ထံသို့ ကျူး
သွားနှင့်သောမြို့သား၊ကြွင်းသမျှသောသူတို့ကို
၁၆ သိမ်းသွားလေ၏။- သို့ရာတွင်၊ စပျစ်ဥယျာဉ်ကို
ပြုစု၍ လယ်လုပ်စေခြင်းငှါ၊ ဆင်းရဲသားအချို့
တို့ကိုထားခဲ့လေ၏။
၁၇ ဗိမာန်တော်၌ ကြေးဝါတိုင်တို့ကိုငှင်း၊ ကြေး
ဝါရေကန်ကိုငှင်း၊ရေမှုန်ခင်တုံ အခြေအမြစ်တို့
ကိုငှင်း၊ ခါလဒဲလူတို့သည်ဖြိုခွဲ၍၊ကြေးဝါရှိသ
၁၈ မျှကို ဗာဗုလုန်မြို့သို့ယူသွားကြ၏။- အိုးကင်း၊
တူးရွင်းပြား၊မီးညှပ်၊ ဖိုး၊ဇွန်း၊မှစ၍ အမှုတော်
ထမ်းစရာ၊ ကြေးဝါတန်ဆာရှိသမျှတို့ကိုလည်း
၁၉ ယူသွားကြ၏။- ရွှေတန်ဆာ၊ငွေတန်ဆာတည်း
ဟူသောအင်တုံ၊ ထင်ပန်း၊ ဖိုး၊ အိုးကင်း၊မီးခုံ၊
ဇွန်း၊ဖလားများကို၊ရွှေဖြစ်စေ၊ငွေဖြစ်စေ၊ကိုယ်
၂၀ ရံတော်မှူးသည် ယူသွားလေ၏။- ဗိမာန်တော်
၌ ရှောလမုန်မင်းကြီး လုပ်သော တိုင် နှစ်တိုင်၊
ရေကန်တခု၊ ရေကန်ခံစရာအခြေအမြစ်ကြေးဝါ
နွားတဆယ်နှစ်ရုပ်၌ပါသောကြေးဝါသည်အချိန်
၂၁ အားဖြင့်အတိုင်းမသိများ၏။- တိုင်အမြင့်ကား
တဆယ် ရှစ် တောင် ရှိ၏၊ လုံးပတ် မူကား၊ တ
ဆယ် နှစ်တောင် ရှည် သော ကြိုး တပတ် ရှိ၏။
၂၂ ခေါင်းပွားမြစ်၍ ဒုထေးသစ်ရှိ၏၊- ကြေးဝါတိုင်
ထိပ်ထဉ်းရှိ၏၊တိုင်ထိပ်အမြင့်ကား၊ငါးတောင်
ရှိ၍ ထိပ်ပတ်လည် ကြေးဝါကွန်ရက်၊ ကြေးဝါ
သလဲသီး တို့နှင့် ပြည့်စုံ၏၊ အခြား သော တိုင်
သည် ထည်း၊ ထို အတူ ဖြစ်၍ သလဲသီး တို့နှင့်
၂၃ ပြည့်စုံ၏။- တိုင်တဘက်နှာ၌သလဲသီးကိုးဆယ်
ခြောက်လုံးစီရှိ၍၊ ကွန်ရက်တဘက်၌ သလဲသီး
ပေါင်းတရာရှိသတည်း။
၂၄ ကိုယ်ရံတော်မှူး နေဗုဇာ ရဒန်သည် ယဇ်ပု
ရောဟိတ်မင်းစရာယ၊ဒုတိယယဇ်ပုရောဟိတ်
ဇေဖနိ၊ ဗိမာန်တော် တံခါးမှူး သုံးယောက်တို့
၂၅ ကိုဖမ်းဆီးလေ၏။-စစ်သူရဲတို့ကိုအုပ်သောမိုလ်
တယောက်၊ မြို့ထဲ၌ တွေ့မိသော ထိုင်ပင်မှူးမတ်
ခုနှစ်ယောက်၊ ပြည်သူပြည်သားများကို နှိုးဆော်
သောတပ်စာရေးကြီးတယောက်၊ မြို့ထဲ၌တွေ့မိ
သောပြည် သား ခြောက် ဆယ် တို့ကို မြို့ထဲက
၂၆ ခေါ်သွား၍၊- ဗာဗုလုန်ရှင်ဘုရင်ရှိရာရိဗလမြို့
၂၇ သို့ဆောင်ခဲ့ပြီးလျှင်၊-ဗာဗုလုန်ရှင်ဘုရင်သည်
ဟာမတ်ပြည် ရိဗလမြို့၌ ထိုသူတို့ကို ကွပ်မျက်စေ၏

၍ ကွပ်ဈာက် လေ၏၊ ထိုသို့ယုဒအမျိုးသည် မိမိ
ပြည်မှသိမ်းသွားခြင်းကို ခံရသတည်း။
၂၈ နေဗုခဒ်နေဇာသမင်း သိမ်းသွား သော လူ ထုမှု
ကား၊ နန်းစံ ခုနှစ်နှစ်တွင်၊ ယုဒ အမျိုးသား သုံး
ထောင် နှစ်ဆယ် သုံးယောက် တို့ကို သိမ်းသွား
၂၉ လေ၏။- တဆယ် ရှစ်နှစ် တွင်၊ ရှစ်ရာ သုံး
ဆယ်နှစ်ယောက် တို့ကို ယေရုရှလင်မြို့မှ သိမ်း
၃၀ သွား လေ၏။- နှစ်ဆယ် သုံးနှစ် တွင်၊ ကိုယ်ရံ
တော် မှူး နေဗုဇာရဒန် သည် ယုဒ အမျိုး သား
ခုနှစ်ရာ လေးဆယ် ငါးယောက် တို့ ကို သိမ်း
သွား၏၊ လူပေါင်းကား၊ လေးထောင်ခြောက်ရာ
ရှိသတည်း။
၃၁ ယုဒရှင်ဘုရင်ယေခေါနိသဉ်ပြည်ရှင်ခံရသော
သုံးဆယ် ခုနှစ် နှစ်၊ ဆယ့်နှစ်လ နှစ်ဆယ် ငါး
ရက်နေ့တွင်၊ ဗာဗုလုန်ရှင်ဘုရင် ဧဝိလ
မေရောဒက် နန်းစံ စက ယုဒ ရှင် ဘုရင် ယေခေါနိ
ကို ထောင်ထဲက ထုတ်၍ ချမ်းသာ ပေးလေ၏-
၃၂ ကောင်းမွန်စွာ ထုတ်ဆက်၍ သူ၏ပလ္လင်ကိုဗာဗု
လုန်မြို့မှာ အထံတော်၌ရှိသောမင်းကြီးများထိုင်
၃၃ ရာပလ္လင်ထိုထက်ချီးမြှင့်လေ၏-ယေခေါနိမင်း
သည် ထောင်ထဲမှာ ဝတ်သော အဝတ်ကို ထဲ၍၊
အသက်ရှည်သမျှကာလပတ်လုံးအစဉ်မပြတ်
၃၄ အထံတော်၌ စား သောက်ရ၏- မသေမှီ ထိုင်
အောင်အသက်ရှည်သမျှ နေ့ရက်အစဉ်မပြတ်
ထု စားစရာကို၊ ဗာဗုလုန် ရှင်ဘုရင် ပေးသနား
တော်မူ၏။

ပရောဖက်ယေရမိစီရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

---

# ယေရမိမြည်တမ်းစကား။

## LAMENTATIONS.

---

၁

၁ စည်ပင်ခဲ့သောမြို့သည် လူဆိတ်ညံလျက်ထိုင်
နေသည် တကား။ လူမျိုးတို့တွင် ကြီးမြတ်သူ
သော သတို့သမီး သည် မုဆိုးမ ကဲ့သို့ဖြစ်၏၊ အ
ပြည်ပြည် တို့၏သခင်မ သည် အခွန် ပေးရ၏-
၂ ညည့်အခါ ငြင်း စွာ ငိုကြွေး၍၊ သူ၏ ပါးသည်
မျက်ရည်နှင့် မိုစွတ်လေ၏၊ ရည်းစားအပေါင်း
တို့တွင်နှစ်သိမ့်စေသောသူတယောက်မျှမရှိ၊အ
ဆွေခင်ပွန်း အပေါင်းတို့သည် သစ္စာဖျက်၍ ရန်
၃ သူဖြစ်ကြပြီ-ယုဒသတို့သမီးသည်ညှဉ်းဆဲခြင်း၊
ကြမ်းတမ်းစွာ စေစားခြင်းကို ခံရသောကြောင့်
ပြောင်းသွားပြီ၊ သာသနာပ လူတို့အထဲမှာ နေ
လျက်ငြိမ်းသာမရ၊ လိုက်သော သူအပေါင်းတို့
၄ သည် ကျဉ်းမြောင်းရာ၌ မှီကြ၏-အဘယ်သူ
မျှပွဲသဘင်သို့ မလာသောကြောင့်၊ ဇိအုန်လမ်း
တို့သည်ညည်းတွားကြ၏၊ သူ၏မြို့တံခါးရှိသမျှ
တို့သည် လူ ဆိတ်ညံ လျက် ရှိကြ၏၊ သူ၏ ယဇ်
ပုရောဟိတ် တို့သည်လည်း ညည်းတွား ကြ၏၊
သူ၏သတို့သမီးကညာတို့သည်ထပ်ငိုနာကြင်သောစိတ်
ရှိ၍၊သူသည်ကိုယ်တိုင်ညှိုးငယ်လျက်နေရ၏-
၅ သူပြစ်မှားသော အပြစ် များပြားသောကြောင့်
ထာဝရဘုရားသည် ဒဏ် ခတ် တော် မူသခြင်း၊
သူနှင့်ဆန့်ကျင်ဘက်ပြုသောသူတို့သည်အမှီရ
၍၊သူ၏ရန်သူတို့သည်ကောင်းစားကြပြီ၊ သူ၏
၆ သားသွီးတို့ကိုလည်း ရန်သူ သိမ်းသွားပြီ- ဇိ
အုန် သတို့သမီး၏ ဂုဏ် အသရေသည့်အကြွင်းမဲ့
ကွယ်ပျောက်၏၊ သူ၏ မင်းသားတို့သည် ကျက်
စားရာကိုရှာ၍ မတွေ့ သော သမင် ဇရယ် ကဲ့သို့
ဖြစ်၍၊ လိုက်သော သူ ရှေ့မှာ အား မရှိဘဲ ပြေး
၇ သွားကြပြီ၊-ယေရုရှလင်မြို့သည်ဆင်းရဲငြိုငြင်
ခြင်းကိုခံရစဉ်တွင်၊အရင်ခံစားဘူးသောစည်း
စိမ်ကိုအောင်းမေ့၏၊သူ၏လူတို့သည်ရန်သူလက်
သို့ရောက်၍မစသောသူမရှိသောအခါ၊ဆန့်ကျင်
ဘက်ပြုသောသူတို့သည်သူ၏အမှုကိုမြင်၍၊ သူ
၈ ၏ဆုံးခြင်းကိုကဲ့ရဲ့ကြ၏-ယေရုရှလင်မြို့ပြစ်မှား
သောအပြစ်သည် အလွန်များ သောကြောင့်၊ ခွဲ

ရှာဖွယ်ဖြစ်လေ၏။ သူကို မြတ်သောသူ သောသူအ
ပေါင်းတို့သည် သူ၌အချည်းစည်းရှိခြင်းကိုမြင်
သောကြောင့်မထီမဲ့မြင်ပြုကြ၏။သူသည်လည်း
၉ ညည်းတွား၍ နောက်သို့ ပြန်သွားလေ၏။— သူ
၌ မစင်ကြယ်သော ထကျွဏာ ထင်ရှား သော်
လည်း၊ နောက်ခံရသောအပြစ်ကိုမအောက်မေ့၊
ထိုကြောင့်၊ ချက်နှာပေးသောသူမရှိဘဲအံ့ဩ
ဖွယ်သောအခြင်းအရာနှင့် နှိမ့်ချခြင်းသို့ရောက်
လေ၏။အိုထာဝရဘုရား၊ အကျွန်ုပ်ဆင်းရဲခြင်း
ကို ကြည့်ရှုတော်မူပါ။ ရန်သူသည်ကိုယ်ကို ချီး
၁၀ မြှောက်ပါပြီ။— ရန်သူသည် သူ၏စည်းစိမ်ကိုလု
ယူပါပြီ။ ပရိသတ် တော်ထဲသို့ မဝင်ရတု မြစ်
တားတော်မူသော သာသနာပ လူတို့သည် သူ၏
သန့်ရှင်းရာ ဌာနတော်ထဲသို့ ဝင်ကြောင်းကို သူ
၁၁ မြင်ရပါ၏။— သူ၏လူအပေါင်း တို့သည် ညည်း
တွားလျက်၊ မုန့်ကိုရှာလျက်နေကြ၏။ သေဘေး
နှင့်လွတ်ခြင်းငှါ မိမိစည်းစိမ်ကို စားစရာတို့နှင့်
ရ၏။ အိုထာဝရဘုရား၊ အကျွန်ုပ်သည် ရှုတ်ချ
ခြင်းကိုခံရသောကြောင့် ကြည့်ရှုဆင်ခြင်တော်
မူပါ။
၁၂ အိုခရီးသွား သော သူအပေါင်းတို့၊ ကြည့်ရှု
ဆင်ခြင်ကြလော့။ ထာဝရဘုရားသည် ပြင်းစွာ
အမျက်တော်ထွက်သောနေ့၌ငါ့ကိုညှဉ်းဆဲ၍၊
ဖြစ် စေတော် မူသော ဒုက္ခနှင့် တူသော ဒုက္ခ ရှိ
၁၃ သလော။— အထက်မှ မီးကိုငါ့အရိုးထဲသို့ လွှတ်
လိုက်၍ကြေ စွစေတော်မူပြီ။ငါ့ခြေကိုကျော့မိစေ
ခြင်းငှါ ကျော့ကွင်းထောင်၍ ငါ့ကိုပြန်စေတော်မူ
ပြီ။တနေ့လုံးညှိုးငယ် ခြင်းအကြောင်း၊ မိတ်ပျက်
၁၄ ခြင်း အကြောင်းကို ငါ၌ ဖြစ်စေတော်မူ၏။— ငါ
ပြစ်မှားသောအပြစ်ထမ်းပိုးကို လက်တော်နှင့်
ငါ့လည်ပင်းပေါ်၌တပ်၍ချည်နှောင် ပြီးမှ၊ ထာ
ဝရဘုရားသည် ငါ့ကိုအားလျော့စေ၍၊ ငါမဆီး
တားနိုင်သော သူတို့လက်သို့ ရောက်စေတော်မူ
၁၅ ပြီ။—ထာဝရဘုရားသည် ငါ၏ သူရဲ အပေါင်းတို့
ကိုငါ့အလယ်၌ ကျော်နင်းတော်မူပြီ။ ငါ၏လူပျို
တို့ကို နှိပ်စက်ခြင်းငှါ လူအလုံးအရင်းကို ခေါ်
တော် မူပြီ။ ထာဝရဘုရားသည် ယုဒ သတို့ သမီး
ကညာကိုစပျစ်သီးနယ်ရာကျင်း၌နင်းနယ်တော်
၁၆ မူပြီ။— ထို အကြောင်း ကြောင့် ငါသည် ငိုရ၏။
မျက်ရည်ကျလျက်ရှိ၏။ ငါ့အသက်ကိုထောက်မ
၍ ငါ့ကိုနှစ်သိမ့် စေသောသူသည် ငါနှင့် ဝေးပါ
၏။ ရန်သူ နိုင်သောကြောင့် သားသမီးတို့သည်
၁၇ ပျောက်ပျက်ကြပြီ။— ဇိအုန် သတို့သမီးသည် မိမိ
လက်ဝါးတို ကို ဖြန့် သော်လည်း၊ နှစ်သိမ့် စေ
သောသူမရှိ၊ ထာဝရဘုရားသည် ယာကုပ်ပတ်
လည်၌ရန်သူတို့ကိုခန့်ထားတော်မူ ပြီ၊ ယေရု ရှ
လင်မြို့သည် သူတို့တွင် ရွံရှာ ဖွယ် ဖြစ်လေ၏။—
၁၈ ထာဝရဘုရားသည် တရားသဖြင့် စီရင်တော် မူ
၏။ ငါသည် ပညတ်တော်ကို လွန်ကျူးမိပြီ။ လူ
မျိုးခပ်သိမ်းတို့၊ နားထောင်၍ငါ၏ ဒုက္ခကိုဆင်
ခြင်ကြပါလော့။ ငါ၏လူပျိုနှင့် အပျိုတို့ကိုသိမ်း
၁၉ သွားကြပြီ။— ငါသည် ရည်းစားတို့ကိုခေါ်၍ သူ
တို့သည်သစ္စာမရှိကြ။ ငါ၏ယဇ်ပရောဟိတ်တို့
နှင့် ငါ၏အသက်ကြီးသူတို့သည် ကိုယ်အသက်
ရှင်စေခြင်းငှါ စားစရာကို ရှာစဉ်ပင် မြို့ထဲ၌ အသက်
၂၀ ချုပ်ကြပြီ။— အိုထာဝရဘုရား၊ ကြည့်ရှုတော်မူ
ပါ။ အကျွန်ုပ် ပင်ပန်းပါ၏။ ဝမ်း၌ရှုတ်ထွေးခြင်း
ရှိပါ၏။ နှလုံး မှောက်လျက် ရှိပါ၏။ အကျွန်ုပ်
သည်အလွန်ပြစ်မှားပါပြီ။ပြင်မှာထားဘေးနှင့်
တွေ့ရပါ ပြီ။ အတွင်း၌လည်း သေမင်းနေသကဲ့
၂၁ သို့ ရှိပါ၏။— အကျွန်ုပ် ညည်း တွားသံကို ကြား
သောသူတို့တွင်၊ နှစ်သိမ့်စေသောသူတယောက်
မျှ မရှိ ပါ။ အ ကျွန်ုပ်၌ ရောက် သော အမှု ကို အ
ကျွန်ုပ်၏ရန်သူအပေါင်းတို့သည်ကြား၊ ကြပါ ပြီ။
ကိုယ်တော် ပြုတော် မူသည်ကို ဝမ်းမြောက် ကြ
ပါ၏။ ကိုယ် တော် မှိန်း ချက် သော နေ့ရက် ကို
ရောက် စေတော် မူ သောအခါ၊ သူတို့ သည် အ
၂၂ ကျွန်ုပ် ကဲ့သို့ပင် ဖြစ်ကြပါစေသော။— သူတို့၏ဒု
စရိုက် အလုံးစုံတို့ကို စစ်ကြော တော် မူပါ။ အ
ကျွန်ုပ်ပြစ်မှားမိသမျှသောအပြစ်တို့ကြောင့်၊အ
ကျွန်ုပ်၌ပြုတော်မူသကဲ့သို့ သူတို့၌ပြုတော်မူပါ။
အကျွန်ုပ်သည်ညည်းတွားခြင်းများပြား၍ မိတ်
ပျက်လျက်ရှိပါ၏။

၂

၁ ထာဝရ ဘုရားသည် ဇိအုန် သတို့ သမီး ကို အ
မျက်တော်မိုးတိမ်ဖြင့်ဖုံးလွှမ်းတော်မူပြီ။ဣ
သရေလအမျိုး၏ ဂုဏ် အသရေကို ကောင်းကင်
မှမြေကြီးတိုင်အောင်ချတော်မူပြီ။ အမျက်တော်
ထွက်မြန်၌ ခြေတော်တင်ရာခုံကို မ အောက်မေ့
၂ ဘဲနေတော်မူပါပြီတကား။—ထာဝရဘုရားသည်
သနားခြင်းမရှိဘဲ၊ယာကုပ်အမျိုး၏နေရာအရပ်
ရှိသမျှတို့ကို မြို တော်မူပြီ။ အမျက်တော် ထွက်
သဖြင့် ယုဒ သတို့သမီး၏ ခဲတိုက် တို့ကို မြေတိုင်
အောင်ဖြိုဖျက်၍၊ နိုင်ငံတော်နှင့်မင်းသားတို့ကို

၃ ရှုတ်ချတော်မူပြီ။- ပြင်းစွာသောအမျက်တော်ထွက်
၍၊ ဣသရေလ၏ ဦးချိုရှိသမျှ တို့ကို ဖြတ်တော်
မူပြီ။ ရန်သူရှေ့မှာ လက်ျာလက်တော်ကို ရုပ်သိမ်း
တော်မူပြီ။ အရပ်ရပ်လောင်သောမီးတောက်ကဲ့
၄ သို့ယာကုပ်အမျိုးကိုလောင်စေတော်မူပြီ။- ရန်
သူကဲ့သို့လေးကိုတင်လျက်၊ရန်ဘက်ပြုသောသူ
ကဲ့သို့ လက်ျာလက်ကို ချီကြွ လျက်၊ တင့်တယ်
ခြင်း အသရေ ရှိသော သူအပေါင်းတို့ကို သတ်
တော်မူပြီ။ဇိအုန်သတို့သမီး၏နေရာတဲပေါ်မှာမီး
ကဲ့သို့သောအမျက်တော်ကိုသွန်းလောင်းတော်
၅ မူ၏။- ထာဝရဘုရားသည်ရန်ဘက်ပြု၍၊ဣသ
ရေလ အမျိုးကို ငုံ၊ ဘုံဗိမာန် အပေါင်းတို့ကို
ငုံမျိုတော်မူပြီ။ ရဲတိုက်တို့ကို ဖြိုဖျက်တော်မူ
ပြီ။ ယုဒ သတို့သမီး ငိုကြွေး မြည်တမ်း သော အ
ကြောင်းတို့ကိုများပြားစေတော်မူပြီ။-ဝင်းတော်
ကို ဥယျာဉ် ခြံ ကဲ့သို့ အမှတ် ပြု၍ ချိုး ဖျက်
တော်မူပြီ။မိမိပွဲသဘင်တော်ကိုဖျက်ဆီးတော်မူ
ပြီ။ ဇိအုန်မြို့၌ခံသောဥပုသ်ပွဲနေ့၊ ဥပုသ်နေ့တို့ကို
ထာဝရဘုရားမေ့စေတော်မူပြီ။ အမျက်တော်အ
ရှိန်ပြင်း၍ ရှင်ဘုရင်နှင့်ယဇ်ပုရောဟိတ်ကိုမရှု
၇ မှတ်ပြုတော်မူပြီ။-ထာဝရဘုရားသည်မိမိယဇ်
ပလ္လင်တော် ကို ပယ်တော်မူပြီ။ မိမိသန့်ရှင်းရာ
ဌာနတော် ကို စက်ဆုပ် တော် မူပြီ။ ဘုံ ဗိမာန်
တော်ကိုရန်သူလက်သို့အပ်တော်မူသဖြင့်၊ပွဲသ
ဘင် ခံသော နေ့၌ အသံပြု သကဲ့သို့၊ ရန်သူ တို့
သည် ထာဝရဘုရား၏ အိမ်တော်၌ အသံပြုကြ
၈ ပြီ။-ထာဝရဘုရားသည်ဇိအုန်သတို့သမီး၏မြို့ရိုး
ကိုဖြိုဖျက်မည်ဟု၊ အကြံတော်ရှိသည်အတိုင်း၊
ကြိုးကိုတန်း၍ အစည်မပြတ် ဖြိုဖျက်တော်မူသ
ဖြင့်၊ အတွင်း မြို့ရိုးနှင့် ပြင် မြို့ရိုးတို့သည် အတူ
ညည်း တွား၍ ငိုကြွေး မြည် တမ်း ရ မည် အ
၉ ကြောင်းပြုတော်မူပြီ။- မြို့တံခါးရွက် တို့ သည်
မြေ၌မြုပ်လျက်ရှိကြ၏။ ကန့်လန့်ကျင်တို့ကိုချိုး
ဖဲ့တော် မူပြီ။ ရှင်ဘုရင် နှင့် မင်းသား တို့ သည်
သာသနာပ လူတို့တွင်နေရကြ၏။ တရားတော်မ
ရှိ။ ပရောဖက်တို့သည် ထာဝရဘုရား၏ဗျာဒိတ်
၁၀ တော်ကိုမခံမရကြ။- ဇိအုန်သတို့သမီး၏အသက်
ကြီးသူတို့သည် မြေမှုန့်ကို မိမိတို့ခေါင်းပေါ်မှာ
ဖြစ်တင်လျက်၊ လျှော်တေအဝတ်ကို ဝတ်စည်း
လျက်၊မြေပေါ်မှာထိုင်၍တိတ်ဆိတ်စွာနေကြ၏။
ယေရုရှလင်မြို့သူကညာတို့သည် ခေါင်းကိုငိုက်
ငိုက်ညွတ်လျက် နေကြ၏။- ငါ၏လူမျိုး သတို့
သမီးပျက်စီး သောကြောင့်၊ ငါသည်မျက်ရည်ကျ
၍ မျက်စိပျက်လေပြီ။ ဝမ်း၌အူလှိုက် ခြင်းရှိ၍
အသည်းလည်း မြေပေါ်မှာ သွန်း လျက် ရှိ၏၊
အကြောင်းမူကား၊ သူငယ်နှင့် နို့စို့ကလေးတို့
၁၂ သည်မြို့လမ်း၌အားပျက်လျက်နေကြ၏။-သူတို့
ကလည်း၊ဆန်စပါးနှင့်စပျစ်ရည်သည်အဘယ်
မှာရှိသနည်းဟု၊ရန်သူညှဉ်းဆဲသောသူကဲ့သို့မြို့
လမ်း၌ အား ပျက် လျက်၊ အမိ ရင်ခွင်၌ မိမိအ
သက်ကိုသွန်းလျက်၊အမိကိုမေးတတ်ကြသည်
တကား။
၁၃ အိုယေရုရှလင် သတို့သမီး၊ သင်၏ အမှု၌ အ
ဘယ်သက်သေကို ငါပြရမည်နည်း။ အိုဇိအုန်
သတို့ သမီး ကညာ၊ သင့်ကို နှစ်သိမ့် စေခြင်း ငှါ၊
သင်နှင့်အဘယ်သူကို ငါနှိုင်းရမည်နည်း၊
သင်၏ပြိုပျက်ရာသည်သမုဒ္ဒရာကဲ့သို့ကျယ်သော
၁၄ ကြောင့် အဘယ်သူပြုပြင် နိုင်သနည်း။- သင်၏
ပရောဖက်တို့သည်အချည်းနှီးသောအရာ၊ မိုက်
သောအရာတို့ကိုသင့်အဖို့မြင်ကြပြီ။ သိမ်းသွား
ချုပ်ထားသောအမှုကို ပြေစေခြင်းငှါ၊ သင်၏အ
ပြစ်ကို မဖော်မပြဘဲ မှားသော ရူပါရုံ၊ လမ်းလွဲ
၁၅ စရာအရာကိုသင့်အဖို့မြင်ကြပြီ။-လမ်း၌ရှောက်
သွားသမျှ သော သူတို့က၊ ဂုဏ်သရေအထွဋ်၊
မြေတပြင်လုံးရွှင်လန်းရာဖြစ်ရှိသောမြို့ကား၊ဤ
မြို့လောဟု၊ ယေရုရှလင်သတို့သမီးကို လက်ခုပ်
တီးလျက်၊ ကဲ့ရဲ့သံကိုပြုလျက်၊ ခေါင်းကိုညိတ်
၁၆ လျက် မေးတတ်ကြ၏။- သင်၏ ရန်သူ အပေါင်း
တို့သည် သင့်တဖက်၌ နှုတ်ကိုဖွင့်ကြ၏။ ငါတို့
သည် သူကိုမျိုပြီ။ အကယ် စင်စစ် ဤသည် နေ့
ကား၊ငါတို့မျှော်လင့်ခဲ့ပြီးသောနေ့ဖြစ်၏။ ငါတို့
တွေ့မြင်ရပြီဟု၊ ကဲ့ရဲ့သံကိုပြုလျက် အံသွားကို
၁၇ ခဲကြိတ်လျက်ဆိုကြ၏။-ထာဝရဘုရားသည်ကြံ
စည်သောအမှုကိုပြုတော်မူပြီ။ ရှေးကာလ၌မိန့်
တော်မူသော စကားတော်ကို ပြည့်စုံ စေတော်မူ
ပြီ။ မနှစ်မြောဘဲဖြိုဖျက်တော်မူပြီ။ ရန်သူသည်
သင်၏အပေါ်မှာ ဝမ်းမြောက်ရ သော အခွင့်ကို
၁၈ ပေး၍၊ရန်သူ၏ဦးချိုကိုချီးမြှင့်တော်မူပြီ။-သူတို့
သည် စိတ်နှစ်လုံးထဲက ထာဝရဘုရားကို အော်
ဟစ်ကြ၏။ အိုဇိအုန် သတို့သမီး၏ မြို့ရိုး၊ သင်၏
မျက်ရည် သည် မြစ်ရေ စီးသကဲ့သို့ နေ့ညဉ့် မ
ပြတ်စီးစေလော့။ ကိုယ်ကိုကိုယ် မငြိမ်းစေနှင့်။
၁၉ သင်၏မျက်ဆန်ကိုလည်း မငြိမ်းစေနှင့်။- ညဦး
ယံအချိန်၌ထ၍အော်ဟစ်လော့။ထာဝရဘုရား

၏ရှေ့တော် ရှေ့မှာ သင်၏ နှစ်လုံးကို ရေကဲ့
သို့ သွန်းလောင်းလော့။ ငတ်မွတ်၍၊ ခပ်သိမ်း
သောလမ်းဝမှာအားပျက်လျက်နေသော၊ သင်
၏သူငယ်တို့ကိုအသက်ချမ်းသာစေခြင်းငှါ၊ အ
၂၀ ထံတော်သို့သင်၏လက်ကိုချီဆန့်လော့။-အိုထာ
ဝရဘုရား၊ ကိုယ်တော်သည်အဘယ်သူ၌ဤသို့
စီရင်တော်မူသည်ကို ကြည့်ရှု ဆင်ခြင် တော်မူ
ပါ။မိန်းမသည်မိမိရင်သွေး၊ မိမိချီပိုက်သောသား
ကို စားရ ပါမည် လော။ ယဇ်ပုရောဟိတ် နှင့်
ပရောဖက်သည် ထာဝရဘုရား၏သန့်ရှင်းရာဌာ
နတော်၌အသေသတ်ခြင်းကိုခံရပါမည်လော။-
၂၁ လူ အကြီး အငယ် တို့ သည် လမ်း၌ မြေပေါ်မှာ
တုံးလုံးနေရကြပါ၏။ အကျွန်ုပ်၏လူပျိုနှင့်အပျို
တို့သည် ထားဖြင့် သေရ ကြပါပြီ။ ကိုယ်တော်
သည် အမျက်တော်ထွက်သောနေ့၌၊ သူတို့ကိုမ
၂၂ သနားဘဲ ကွပ်မျက်တော်မူပြီ။- ပွဲသဘင် နေ့၌
လူတို့ကိုခေါ်ဖိတ်သကဲ့သို့၊ အကျွန်ုပ်ပတ်ထည်
၌ကြောက်မက်ဖွယ်သော အရာတို့ကိုခေါ်ဖိတ်
တော်မူပြီ။ ထာဝရဘုရား အမျက်တော် ထွက်
သောနေ့၌အဘယ်သူမျှမလွတ်၊ မကျန်ကြွင်းရ
ပါ။ အကျွန်ုပ်ချီပိုက်ကျွေးမွေးသောသူတို့ကိုအ
ကျွန်ုပ်၏ရန်သူသည်ဖျက်ဆီးပါပြီ။

၃

၁ ငါသည် ဘုရား သခင် ၏ အမျက် တော် ကြိမ်
လုံး အောက်၌ ဆင်းရဲခြင်းကို ခံရသော သူဖြစ်
၂ ၏။- ငါ့ကိုသွေးဆောင်၍ အလင်းသို့ မပို့၊ မှောင်
၃ မိုက်ထဲသို့ပို့ဆောင်တော်မူ၏။- အကယ်စင်စစ်
ငါ့ကိုတနေ့လုံးအထပ်ထပ်ဒဏ်ခတ်တော်မူ၏။-
၄ ငါ့အရေနှင့်အသားကိုဆွေးယိုစေ၍ငါ့အရိုးတို့ကို
၅ ထည်းချိုးတော်မူ၏။-ငါ့တဖက်၌တပ်တည်၍ခါး
သောအရာ၊ ပင်ပန်းစရာ အကြောင်းတို့နှင့်ဝိုင်း
၆ တော်မူ၏။-သေလွန်သောသူတို့ကိုဂူတတ်သကဲ့
၇ သို့၊ငါ့ကိုမိုက်သောအရပ်၌ထားတော်မူ၏။-ငါမ
ထွက်နိုင်အောင်ဝင်းခတ်၍၊ လေးသောသံကြိုး
၈ နှင့်ချုပ်နှောင်တော်မူ၏။-ထိုမှတပါးငါသည်ကျွေး
ကြော်အော်ဟစ်၍ ဆုတောင်းသော်လည်း ငြင်း
၉ ပယ်တော်မူ၏။-ငါသွားရာလမ်းကိုကျောက်ထ
ရံနှင့်ပိတ်၍၊ ကောက်သော လမ်းဖြင့် သွား စေ
၁၀ တော်မူ၏။- ငါ့ကိုချောင်းမြောင်းသော ဝက်ဝံကဲ့
သို့၎င်း၊ မထင်ရှားသောအရပ်၌နေသောခြင်္သေ့
၁၁ ကဲ့သို့၎င်း ဖြစ်တော် မူ၏။- ငါ့ကို လမ်းလွဲ စေပြီး
ချွန်း[illegible]ဖြတ်၍ [illegible]ဆီး တော်မူ၏။-

၁၂ လေး တော်ကို တင်၍ ပြစ်စရာ စက်အရာ၌ ငါ့ကို
၁၃ ထား တော် မူ၏။- မြှား တော် တို့ကို လည်း၊ ငါ
၁၄ ကျောက်ကပ်ကို ခွင်းစေတော်မူ၏။- ငါသည်ငါ
၏လူတို့တွင်ကဲ့ရဲ့စရာအကြောင်းနှင့်၊ တနေ့လုံး
သီ ခြင်း ဆို စရာ အ ကြောင်း ဖြစ် ပါ သည် တ
၁၅ ကား။-ခါးသောဆေးနှင့်ငါ့ကိုဖြည့်၍၊ ဒေါနနှင့်
၁၆ ယစ်မူးစေတော်မူ၏။- ကျောက်စရစ်ကိုကျွေး၍
ငါ့သွားတို့ကိုချိုးတော်မူ၏။ မီးဖိုပြာနှင့်ဖုံးတော်
၁၇ မူ၏။- ငါ၏ဝိညာဉ်ကို ချမ်းသာနှင့် ဝေးစွာ ရွှေ
တော် မူ သော ကြောင့်၊ ငါ သည် မင်္ဂလာ အ
၁၈ ကြောင်းကို မေ့လျော့ ၏။- သို့ဖြစ်၍၊ ငါသည်
ထာဝရဘုရားရှေ့တော်၌အစွမ်းသတ္တိနှင့်မျှော်
လင့်စရာအကြောင်းပျက်လေပြီဟုဆိုရ၏။
၁၉ အကျွန်ုပ်ခံရသော ဆင်းရဲပြင်းပြင် ခြင်းကို၎င်း၊
ဒေါနနှင့် သည်း ခြေ အရည် ကို၎င် အောင်း မေ့
၂၀ တော်မူပါ။-ဧကန်အမှန်အောင်းမေ့တော်မူလိမ့်
၂၁ မည်။- ထိုသို့အကျွန်ုပ်၏ စိတ်နှလုံးသည်ဆင်
ခြင်၍သတိရသောအခါ မျှော်လင့်စရာအ ခွင့်ရှိ
၂၂ ပါ၏။- ထာဝရ ဘုရားသည် သနား တော် မူ၍
ကရုဏာတော်သည် မကုန်သောကြောင့်၊ ငါတို့
၂၃ သည်ဆုံးရှုံးခြင်းသို့မရောက်ဘဲနေကြ၏။-နံနက်
တိုင်းကရုဏာတော် အသစ်ကိုခံရကြ၏။ သစ္စာ
၂၄ တော်သည်ကြီးမြတ်ပါ၏။-ငါ့ဝိညာဉ်၏သဘော
တူမူကား၊ ထာဝရ ဘုရား သည် ငါ၏ အဖို့ ဖြစ်
တော်မူ၏။ ထိုကြောင့်၊ ကိုယ် တော် ကို ငါမျှော်
၂၅ လင့်ပါ၏။- ကိုယ်တော်ကိုမျှော်လင့်သောသူနှင့်
ကိုယ်တော်ကို ရှာသောသူ၏ စိတ်ဝိညာဉ် အား
ထာဝရ ဘုရား သည် ကျေးဇူး ပြု တော် မူ ၏။-
၂၆ ကယ်တင်တော်မူမည်ဟု မျှော်လင့်လျက်၊ ငြိမ်
၂၇ ဝပ်စွာစောင့်၍နေကောင်း၏။-လူသည်အသက်
၂၈ ပျိုစဉ်အခါထမ်းဘိုးကိုထမ်းကောင်း၏။-ထမ်း
ဘိုးကို တင် တော် မူ သောကြောင့် တယောက်
၂၉ တည်းထိုင်၍ငြိမ်ဝပ်စွာနေစေ။- မျှော်လင့်စရာ
အခွင့်ရှိကောင်းရှိလိမ့်မည်ဟုထင်လျက်၊မိမိနှုတ်
၃၀ ကို မြေမှုန့်၌ ကပ်စေ။- ရိုက်သော သူ အား မိမိ
ပါးကိုပေး၍၊ ကဲ့ရဲ့ပြစ်တင်ခြင်းနှင့်ပြည့်ဝစေ။-
၃၁ အကြောင်းမူကား၊ ထာဝရဘုရားသည်အစဉ်
၃၂ စွန့်ပြစ်တော်မမူတတ်။- ဝမ်းနည်း စေတော်မူ
သော်လည်း၊ ကရုဏာတော်များပြားသည်နှင့်
၃၃ အညီသနားတော် မူလိမ့်မည်။- ဆင်းရဲ စေ ချင်
သောစိတ်နှင့်လူသားတို့ကိုညှဉ်းဆဲ၍ဝမ်းနည်း
၃၄ စေတော်မူသည်မဟုတ်။- ချုပ်ထားသော ပြည်

ထသား အပေါင်းတို့ကို ခြေနှင့် နင်း ကြိတ်ခြင်းအ
၃၅ မှု၊– လူခံထိုက်သော တရားကို အမြင့်ဆုံးသော
၃၆ ဘုရားမျက်မှောက်၌ ဖျက်ခြင်းအမှု၊– သူတပါး
ကိုမတရားသဖြင့် စွဲချစေခြင်းအမှုတို့ကိုထာဝရ
၃၇ ဘုရား နှစ်သက်တော် မမူ။– ထာဝရဘုရားမှာ
ထားတော်မမူဘဲ၊ အဘယ်သူသည်ပြော၍ တစုံ
၃၈ တခုကို ဖြစ်စေနိုင် သနည်း။– အမြင့်ဆုံး သော
ဘုရား၏ နှုတ်တော်ထွက် ရှိသည် အတိုင်း၊ မင်္ဂ
လာနှင့်အမင်္ဂလာဖြစ်တတ်သည်မဟုတ်လော။–
၃၉ အသက် ရှင် သော လူ သတ္တဝါ သည် အဘယ်
ကြောင့် မြည်တမ်းရမည်နည်း။ မိမိဒုစရိုက်အ
၄၀ ပြစ်ကြောင့်မြည်တမ်းရမည်လော။– ငါတို့သည်
ကိုယ် ကျင့်သော လမ်းတို့ကို စစ်ကြော စုံ စမ်း
၍၊ ထာဝရဘုရားထံတော်သို့ ပြန်သွားကြကုန်
၄၁ စို့။– ကောင်းကင် ဘုံ၌ ရှိတော် မူ သော ဘုရား
သခင် ထံတော်သို့ နှစ်လုံးနှင့် လက်တို့ကို ချီ ကြ
ကြကုန်စို့။
၄၂ အကျွန်ုပ် တို့ သည် ပြစ်မှား ပုန်ကန် မိပါ ပြီ။
၄၃ ကိုယ်တော်သည်အပြစ်လွှတ်တော်မမူပါ။– အ
မျက်တော်ထွက်၍ မျက်နှာလွှဲတော်မူ၏။ တဖန်
အကျွန်ုပ်တို့ကိုလိုက်၍ကရုဏာမရှိဘဲကွပ်မျက်
၄၄ တော်မူ၏။– အကျွန်ုပ်တို့ ပဌနာစကားသည်အ
ထံတော်သို့ မပေါက်နိုင်အောင်၊ မိုဃ်းတိမ်ဖြင့်
၄၅ ကိုယ်ကိုကွယ်ကာတော်မူ၏။–အကျွန်ုပ်တို့ကိုလူ
မျိုးတို့တွင်လှည်းပြစ်သောတန်မြက်ချေးအမှိုက်
ကဲ့သို့၎င်း၊ ရွံ့စရာ အရာကဲ့သို့၎င်း ဖြစ်စေတော်မူ
၄၆ ၏။–ရန်သူအပေါင်းတို့သည်အကျွန်ုပ်တို့တဘက်
၄၇ ၌ နှုတ် ကို ဖွင့် ကြ ပါ ၏။– အ ကျွန်ုပ် တို့ သည်
ကြောက်လန့် ဖွယ်သော အရာထဲ သို့၎င်း၊ တွင်း
ထဲသို့၎င်း၊သုတ်သင်ပယ်ရှင်းဖျက်ဆီးခြင်းထဲသို့
၎င်းရောက်ကြပါပြီ။
၄၈ ငါ၏လူမျိုးသတို့သမီးပျက်စီးသောကြောင့်၊ ငါ
၄၉ မျက်စိသည်မြစ်ရေဖြစ်၍စီးလျက်ရှိ၏။– ထာဝရ
၅၀ ဘုရားသည် ကောင်းကင်က ငုံ့ကြည့်၍ ရှုမှတ်
တော်မမူမှီတိုင်အောင်၊ ငါမျက်ရည်သည် ကျ၍
၅၁ အစဉ်မပြတ် ယိုစီးလျက် ရှိ၏။– ငါ၏ မြို့သမီးအ
ပေါင်းတို့ အတွက်ကြောင့်၊ ငါမျက်စိသည် ငါနှစ်
လုံးကိုပူစေတတ်၏။
၅၂ အကြောင်းမရှိဘဲ ငါကိုရန်ပြုသောသူတို့သည်
ငှက်ကိုလိုက်၍ ရှာသကဲ့သို့ ငါကိုလိုက်၍ရှာကြ
၅၃ ၏။– မြေတွင်း၌ ငါအသက်ကိုဖြတ်၍၊ ငါ့အပေါ်
၅၄ မှာကျောက်ကိုတင်ထားကြ၏။– ငါ့ခေါင်းကိုရေ
လွှမ်းမိုးသည်ဖြစ်၍၊ ငါသည်ဆုံး၊ ရှုံးပြီဟုဆိုရ
၅၅ ၏။– အိုထာဝရဘုရား၊ နက်သောမြေတွင်းထဲက
အကျွန်ုပ်သည် ကိုယ်တော်၏နာမကိုခေါ်ပါ၏။–
၅၆ အကျွန်ုပ် ခေါ်သံကိုကြား တော် မူသည် ဖြစ်၍၊
အကျွန်ုပ်ညည်းတွား အော်ဟစ်သောအခါနား
၅၇ တော်ကို လွှဲတော် မမူ ပါနှင့်။– အကျွန်ုပ် သည်
ကိုယ်တော်ကို ထပ်ခေါ်သောအခါ၊ ကိုယ်တော်
သည်ချဉ်းကပ်တော်မူ၍၊ မကြောက်နှင့်ဟုမိန့်
၅၈ တော်မူပြီ၊– အိုထာဝရဘုရား၊ ကိုယ်တော်သည်
အကျွန်ုပ်အသက်နှင့်ဆိုင်သောအမှုကိုစောင့်၍
၅၉ ရွေးနှုတ်တော်မူပြီ။– အိုထာဝရဘုရား၊ ကိုယ်
တော်သည် အကျွန်ုပ်ခံရသောညှဉ်းဆဲခြင်းကို
မြင်တော်မူပြီ။ အကျွန်ုပ်အမှုတရားစီရင်တော်မူ
၆၀ ပါ။– သူတို့သည် အကျွန်ုပ်ကိုရန်ငြိုးဖွဲ့သမျှနှင့်
မကောင်းသောအကြံရှိသမျှကို ကိုယ်တော်မြင်
၆၁ တော်မူပြီ။– အိုထာဝရဘုရား၊ သူတို့ကဲ့ရဲ့သော
အကြောင်းနှင့်မကောင်းသောအကြံရှိသမျှကို
၆၂ ၎င်း၊– အကျွန်ုပ်တဘက်၌ထသော သူတို့၏အပြော
ထင်ခြင်း၊ အကျွန်ုပ်တဘက်၌ တနေ့လုံးကြံစည်
ခြင်းကို၎င်းကိုယ်တော် ကြားတော်မူပြီ။– သူတို့
ထိုင်ခြင်း၊ထခြင်းကိုကြည့်ရှုတော်မူပါ။ အကျွန်ုပ်
သည် သူတို့ သီခြင်း ဆိုစရာ အကြောင်း ဖြစ်ပါ
၆၄ ၏။– အိုထာဝရဘုရား၊ သူတို့ကျင့်သောအကျင့်
နှင့်အလျောက် အကျိုးအပြစ်ကို ဆပ်ပေးတော်
၆၅ မူပါ။– သူတို့ စိတ် နှလုံးကို မိုင်မာ စေ၍ ကျိန်
၆၆ တော် မူပါ၊– အ မျက် တော် ထွက်၍ သူ တို့ကို
ညှဉ်းဆဲသဖြင့်၊ထာဝရဘုရား၏မိုဃ်းကောင်း
ကင်အောက်မှသုတ်သင်ပယ်ရှင်းတော်မူပါ။

၄

၁ ရွှေသည် အတွန် ထမ်း၊ ငြိုသည် တကား။ အ
ကောင်း ဆုံး သော ရွှေသည် အတွန် ဖောက်ပြန်
သည်တကား။ သန့်ရှင်းသောကျောက်တို့သည်
စပ်သိမ်းသောလမ်းဝထိပ်၌ဖရိုဖရဲကွဲပြားလျက်
၂ ရှိကြ၏။– အမြတ်ဆုံးသော ရွှေနှင့်အမျှ အဖိုး
အထိုက်သောဇိအုန်မြို့သားတို့ကိုအိုးထိန်း
သမားလုပ်သော မြေအိုးကဲ့သို့ မှတ်ထင်သည်
၃ တကား။– မြေခွေးမတို့ပင် မိမိတို့ သားငယ်တို့
အား နို့သီးကိုပေး၍ နို့တိုက်တတ်၏။ ငါ၏လူမျိုး
သတို့သမီးမူကား၊ တောခေါ်နေသောငှက်ကုလားအုတ်
၄ ငှက်ကဲ့သို့ကြမ်းကြုတ်သောသဘောရှိ၏။– နို့
ကလေးသည် နို့ငတ်သောကြောင့်၊ လျှာသည်
အာခေါင်၌ကပ်လျက်ရှိ၏။ သူငယ်တို့သည်မုန့်

၅ ကိုတောင်း၍အဘယ်သူမျှမပေး။- ကောင်းမွန်
စွာစားတတ်သော သူတို့သည် ကိုးကွယ်ရာမရှိ၊
ထမ်း၍နေကြ၏။ နီမောင်းသော ဖိပ်ရာပေါ်မှာ
ပျော်မွေ့ဘူးသော သူတို့သည် နောက်ချေးပုံကို
၆ ဖက်ရကြ၏။- အဘယ်သူမျှအားမထုတ်ဘဲ ချက်
ချင်းပျက်စီးခြင်းသို့ ရောက်သော၊ သောဒုံမြို့ခံရ
သောအပြစ်ဒဏ်ထက်၊ ငါ၏လူမျိုး သတို့သမီးခံ
၇ ရသောအပြစ်ဒဏ်သည်သာ၍ကြီးပေ၏။- သူ
၏မှူးမတ်တို့သည် မိုဃ်းပွင့်ထက်သန့်ရှင်း၍၊ နို့
ရည်ထက်လည်း ဖြူကြ၏။ သူတို့ အသားသည်
ကျောက်နီထက် နီ၏။ သွေးကြောလဥ်းနီလာနှင့်
၈ တူ၏။- ယခုမူကား၊ သူတို့အဆင်းသည် မှောင်
မိုက်ထက် မည်းသည်ဖြစ်၍ ထမ်း၌မထင်ရှား။
သူတို့အရေသည်အရိုး၌ကပ်၍ ထင်းကဲ့သို့သွေ့
၉ ခြောက်လေ၏။- ထားဖြင့် သေ သော သူသည်၊
ငတ်မွတ်၍ သေသောသူထက် သာ၍ မင်္ဂလာရှိ
၏။ ငတ်မွတ်၍ သေသော သူသည် အသီး အနှံ
ပြတ်ခြင်း အားဖြင့် ထိုးဖောက်၍ ပိန် ကြုံရ၏။-
၁၀ မိတ်ကြွင်နာတတ်သော မိန်းမတို့သည် မိမိတို့သား
ကိုပင် ပြုတ်ရကြ၏။ ငါ၏လူမျိုး သတို့ သမီးသည်
ပျက်စီး သော ကာလ၌ မိမိတို့သားကိုပင် စားရ
၁၁ ကြ၏။- ထာဝရဘုရားသည် အမျက်တော်ကိုစုံ
လင် စေတော်မူပြီ။ ပြင်းစွာသော အမျက်တော်
အရှိန်ကိုသွတ်တော်မူပြီ။ ဇိအုန်မြို့ကိုမီးရှို့၍ မြို့
၁၂ မြို့အမြစ်တိုင်အောင် လောင်စေတော်မူပြီ။- ရန်
ပြုသောသူနှင့် စစ်တိုက်သော သူသည် ယေရုရှ
လင်မြို့တံခါးအတွင်းသို့ဝင်နိုင်သဥ်ဟူ၍၊ လောကီ
ရှင်ဘုရင်နှင့် လောကီသတ္တဝါ တစုံတယောက်
မျှမယုံကြ
၁၃ ယေရုရှလင်မြို့အလယ်၌ဖြောင့်မတ်သောသူ
တို့ကို သတ်တတ်သော မြို့သား ပရောဖက်တို့၏
ဒုစရိုက်များနှင့်၊ ယဇ်ပရောဟိတ်တို့၏ အပြစ်
၁၄ များကြောင့် ဤအမှုသည်ရောက်လေပြီ။- ထိုသူ
တို့သည် အရူးကဲ့သို့လမ်း၌လှည့်လည်၍၊ လူအ
သွေးနှင့်လူးသောခြောင့်၊ သူတို့အဝတ်ကို အ
၁၅ ဘယ်သူမျှမထိဝံ့။- သွားကြ။ မစင်ကြယ်သော
သူတို့၊ သွားကြ။ သွားကြ။ မထိကြနှင့်ဟု၊ သူတ
ပါးတို့သည် ဟစ်တတ်ကြ၏။ အဝေးသို့ပြေး၍
အရပ်ရပ်သို့လှည့်လည်ရသောအခါ သာသနာ
ပလူတို့က၊ သူတို့သည်မတဥ်းမနေရဟု ဆိုတတ်
၁၆ ကြ၏။-ထာဝရဘုရားသည်အမျက်တော်ထွက်
၍ သူတို့ကို ကွဲပြားစေတော်မူပြီ။ သူတို့အမှုကို
ကြင်ရှုတော်မမူ။ သူတပါးတို့သည်လည်း၊ ယဇ်
ပရောဟိတ်တို့ကိုမရိုသေ၊ အသက်ကြီးသူတို့ကို
၁၇ အားမနာဘဲနေကြ၏။-ငါတို့သည်ရှိစည်တွင်မစ
မည်သူကိုမျှော်လင့်၍ မမြင်ရကြ။ မကယ် တင်
နိုင်သော လူမျိုးကို ကင်းစင်ပေါ်မှာ အကျိုးမရှိ
၁၈ ဘဲစောင့်ကြပြီ။-ငါတို့သည်လမ်း၌မသွားရမည်
အကြောင်း ငါတို့ခြေရာကို လိုက်ရှာကြ၏။ ငါတို့
သည် ဆုံးချိန်နီးပြီ။ အသက်ရှင်ရသောကာလ
၁၉ စေ့ပြီ။ ဆုံးချိန်ရောက်လေပြီ။- ငါတို့ကိုလိုက်၍
ရှာသောသူတို့သည် မိုဃ်းကောင်းကင်ရှိ ထင်း
တထက်သာ၍လျင်မြန်ကြ၏။ တောင်ရိုးပေါ်မှာ
လိုက်ရှာကြ၏။ တော၌လည်းချောင်းမြောင်းကြ
၂၀ ၏။- ငါတို့ထွက်သက်ဝင်သက် တည်းဟူသော၊
ထာဝရဘုရား ပေးတော်မူ၍ ဘိသိတ် ခံသော
အရှင်ကိုသူတို့သည် မြေတွင်း၌ဖမ်းမိကြပြီ။ ထို
အရှင်၏ ဘုန်းတော်ကို ခိုလှုံ၍၊ ငါတို့သည်သာ
သနာပ လူတို့တွင် အသက် ချမ်းသာ ရလိမ့်မည်
ဟု၊ အထက်က ဆိုတတ်ကြ၏၊
၂၁ ဥဇပြည်၌နေသောဧဒုံသတို့သမီး၊ ဝမ်းမြောက်
ရွှင်လန်းလော့။ ဖလားတော်သည် သင်ရှိရာသို့
ကူးသွားလိမ့်မည်။ သင်သည် ယစ်မူး၍အဝတ်
၂၂ အချည်းစည်းရှိရလိမ့်မည်။-ဇိအုန်သတို့သမီး၊
သင်ခံထိုက်သမျှသောအပြစ်ဒဏ်ကုန်ပြီ။ သင်
သည်နောက်တဖန်သိမ်းသွားခြင်းကိုမခံရ။ အို
ဧဒုံသတို့သမီး၊ သင်ပြုသောဒုစရိုက်ကို စစ်ကြော
၍သင်၏အပြစ်ကိုဖော်ပြတော်မူမည်။

၅

၁ အိုထာဝရဘုရား၊ အကျွန်ုပ်တို့၌ရောက်သော
အမှုကို အောက်မေ့တော်မူပါ။ အကျွန်ုပ်တို့ခံရ
သောကဲ့ရဲ့ခြင်းကို ကြည့်ရှု၍ ဆင်ခြင် တော်မူ
ပါ။- အကျွန်ုပ်တို့ အမွေခံရာမြေသည် တပါးအ
မျိုးသားလက်သို့၎င်း၊ နေရာအိမ်တို့သည်လည်း
တကျွန်းတနိုင်ငံသားတို့ လက်သို့၎င်း ရောက်ပါ
ပြီ။-အကျွန်ုပ်တို့သည် မိဘမရှိသောသူငယ်ဖြစ်
ကြပါ၏။ အဖဆုံးပါပြီ။ အမိသည် မုဆိုးမကဲ့သို့
၄ နေရပါ၏။-ငွေပေး၍ရေကိုသောက်ရပါ၏။ ထင်း
၅ ကိုလည်းဝယ်ရပါ၏။-ထမ်းဘိုးကိုအစဥ်ထမ်း
၆ ရပါ၏။ မရပ်မနေဘဲလုပ်ကိုင်ရပါ၏။- စားစရာ
ကိုရခြင်းငှါ အဲဂုတ္တု ပြည်သား၊ အာရှုရိပြည်
၇ သားတို့၌ကျွန်ခံရပါ၏။- ဘိုးဘေးတို့သည်ပြစ်
မှား၍သေပြီးမှ၊ အကျွန်ုပ်တို့သည် သူတို့အပြစ်
၈ များကိုခံရပါ၏။- သူကျွန်တို့သည် အကျွန်ုပ်တို့

ကိုအုပ်စိုးကြပါ၏၊ သူတို့လက်မှအဘယ်သူမျှမ
၉ ကယ်မနှုတ်ပါ။-တောသို့ထားတေးနှင့်တွေ့၍အ
၁၀ သေခံလျက်စားစရာကိုရှာရကြပါ၏။-ငွတ်ထိပ်
ခြင်းအချိန်ကြောင့်အကျွန်ုပ်တို့၏အရေသည်မီး
ဖိုကဲ့သို့မည်းပါ၏။
၁၁ ဇိအုန်မြို့၌မိန်းမများကိုလည်း၊ယုဒမြို့ရွာတို့၌မိန်းမပျို
၁၂ များကိုလည်းအဓမ္မပြုကြပါ၏။-မှူးမတ်တို့ကိုလက်
ဖြင့်ဆွဲထားကြပါ၏၊အသက်ကြီးသူတို့ကိုထငြီး
၁၃ မရှိသေကြပါ။-လူပျိုတို့သည်ကြိတ်ဆုံကိုထမ်း
ရကြပါ၏၊ သူငယ်တို့သည်ထည်းထင်းအောက်
၁၄ မှာ လဲရကြပါ၏။- အသက်ကြီးသူတို့သည် မြို့
တံခါးဝ၌၎င်း၊လူပျိုတို့သည်ပွဲသဘင်၌၎င်းကွယ်
၁၅ ပျောက်ကြပါ၏။-အကျွန်ုပ်တို့သည်နှစ်သိုးရွှင်
လန်းခြင်း ပြတ်၍၊ ကခြင်းအရာ၌ ညည်းတွားခြင်း
၁၆ ခြင်း ရှိကြ ပါ၏။- အကျွန်ုပ်တို့ ဆောင်း သော
သရဖူသည်ကျပါပြီ၊ အကျွန်ုပ်တို့သည်ပြစ်မှား
၁၇ သောကြောင့်အမင်္ဂလာရှိကြပါ၏။- ထိုကြောင့်၊

အကျွန်ုပ်တို့သည် စိတ်ပျက်ကြပါပြီ၊ ထိုအပြစ်
၁၈ ကြောင့် မျက်စိ တို့သည်လည်း မှဲ့ကြပါ၏။- လူ
ဆိတ်ညံလျက်ရှိသော ဇိအုန်တောင်ပေါ်မှာမြေ
၁၉ ခွေးတို့ သည် သွား လာ ကြ ပါ၏။- အိုထာဝရ
ဘုရား၊ ကိုယ် တော် သည် နိစ္စအမြဲ တည်တော်
မူ၏။ ပလ္လင် တော် သည် လည်း ထာဝရ ပလ္လင်
၂၀ ဖြစ်ပါ၏။- ကိုယ် တော်သည် အဘယ် ကြောင့်
အကျွန်ုပ် တို့ကို အစဉ် မပြတ် မေ့လျော့ တော်
မူ သ နည်း။ အဘယ် ကြောင့် ကာ လ ကြာ မြင့်
၂၁ စွာစွန့်ပြစ်တော်မူသနည်း။-အိုထာဝရဘုရား၊
အကျွန်ုပ် တို့ကို အထံ တော် သို့ လှည့်စေ တော်
မူပါ၊ ထိုသို့လျှင်၊ အကျွန်ုပ်တို့သည် ပြန်၍ လာ
ကြ ပါ မည်၊ ရှေးကာလကဲ့သို့ အကျွန်ုပ်တို့ ကာ
၂၂ လ ကို အသစ် ပြု ပြင် တော် မူ ပါ။- အကယ် ၍
ကိုယ်တော်သည် အကျွန်ုပ်တို့ကို ရှင်းရှင်းပယ်
တော်မူမည်လော၊ ပြင်းစွာအမျက် ထွက်တော်
မူမည်လော။

ပရောဖက်ယေရမိမြည်တမ်းသောစကားပြီး၏။

---

# ယေဇကျေလအနာဂတ္တိကျမ်း။

## EZEKIEL.

၁

၁ သုံးဆယ် ပြည့်၊ ယေခေါ နိ မင်း
၂ ကြီးနှင်းကျပညွှမနှစ်၊ စတုတ္ထလ၊ ငါးရက်နေ့၌
ငါသည် သိမ်းသွားသော သူတို့တွင် ခေဗာ မြစ်
နား မှာ ရှိ နေ စဉ်၊ မိုဃ်း ကောင်း ကင် ပွင့်၍
၃ ဘုရားသခင်၏ဗျာဒိတ်ရူပါရုံတို့ကိုမြင်ရ၏။-ထို
အခါ ခါလဒဲ ပြည်၊ ခေဗာ မြစ် နား မှာ ထာဝရ
ဘုရား၏နှုတ်ကပတ်တော်သည် ယဇ်ပုရောဟိတ်
ဗုဇိသားယေဇကျေလအမည်ရှိသော ငါ့ထံသို့
ရောက်၍၊ ထာဝရဘုရား၏ လက်တော်သည် ငါ
အပေါ်မှာတင်လျက်ရှိ၏။
၄ ငါကြည့်ရှု၍၊ပြင်းစွာသောလေ၊ကြီးစွာသော
မိုဃ်းတိမ်၊တွန်းထင်းသောမီးစက်သဉ့်ခြောက်
မျက်နှာမှ ပေါ်လာ၏၊ မီးစက်ထဲက ထရှမေထ
၅ အရောင်ထွက်လေ၏၊-ထိုမီးစက်ထဲမှာသတ္တဝါ

လေးပါးတို့သဏ္ဍာန်ထင်ရှား၏။ထိုသတ္တဝါတို့၏
အဆင်းသဏ္ဍာန်ဟူမူကား၊ လူ၏ပုံသဏ္ဍာန်ကို
၆ ဆောင်၍၊- မျက်နှာလေးခုစီ၊ အတောင်လည်း
၇ လေးခုစီရှိကြ၏။-ခြေထောက်သည်ဖြောင့်သော
ခြေထောက်ဖြစ်၏။ခြေဖဝါးသည်နွားသငယ်၏
ခြေဖဝါးကဲ့သို့ဖြစ်၍၊ ပြောင်သစ်သော ကြေးဝါကဲ့
သို့တောက်လေ၏။ကိုယ်လေးမျက်နှာအတောင်
၈ အောက်၌ လူလက်ရှိ၏။- ထို လေး ပါး တို့သည်
မျက်နှာ တို့နှင့်၎င်း၊ အတောင်တို့နှင့်၎င်း ပြည့်စုံ
၉ ကြ၏။- အတောင်ချင်းတခုနှင့်တခု စပ်လျက် ရှိ
၍၊ ထိုသတ္တဝါတို့ သွားသောအခါ တပါးမျှ မ
၁၀ လည်သဲ တည့်တည့် သွားတတ်ကြ၏။- မျက်နှာ
အဆင်း သဏ္ဍာန်ဟူမူကား၊ သတ္တဝါလေးပါး
တို့သည်လက်ျာဘက်၌လူမျက်နှာ၊ခြင်္သေ့မျက်
နှာနှင့်၎င်း၊လက်ဝဲဘက်၌နွားမျက်နှာနှင့်လည်း

၁၁ တရှက်နှာနှင့်ငုင်ပြည့်စုံကြ၏။- အတောင်များ
တို့သည်အထက်သို့ ဖြန့်၍၊ အတောင် နှစ်ခုချင်း
စပ်လျက်၊နှစ်ခုဖြင့်ကိုယ်ကိုဖုံးလျက် ရှိကြ၏။-
၁၂ ထို သတ္တဝါ တို့သည် ဝိညည်တော် သွား ခွင့် ရှိ
သည်အတိုင်း သွားကြ၏။ သွားသောအခါ တ
ပါးမျှမထည်ဘဲ တည့်တည့် သွားတတ်ကြ၏။-
၁၃ **ထို သတ္တဝါ တို့၏ အဆင်း အရောင် သည် ကား၊**
တောက်သောမီးခဲအရောင်၊မီးရှူးအရောင်နှင့်
တူ၏။မီးသည်တောက်လျက်သတ္တဝါတို့တွင်အ
နှံ့အပြား ဖျည့်ထည်၍ မီးထဲက လျှပ်စစ်ပြက်
၁၄ ထေ၏။- သတ္တဝါ တို့သည်ထည်း လျှပ်စစ်နှ ယ်
ကဲ့သို့အရောင်တောက်၍၊ ပြေးလျက်၊ ပြန်ထာ
လျက်ရှိကြ၏။
၁၅ ထိုသတ္တဝါတို့ကို ငါကြည့်ရှုစဉ်၊ သူတို့ အ
နားမှာ လေးပိုင်းရှိသော ရထား ဘီး တခုစီထင်
ရှား၏။- ထို ရထား ဘီး တို့၏ အဆင်း အရောင်
သည်ကား၊ ကျောက် ဖျက်ရွှဲ အဆင်း အ ရောင်
နှင့်တူ၏။ ထိုလေးခုတို့သည်အဆင်းအရောင်တ
ညီတည်းရှိကြ၏။ပုံသဏ္ဌာန်မူကား၊ဘီးတခုအ
၁၆ ထဲ၌ဘီးတခုတပ်သကဲ့သို့ဖြစ်၏။-သွားသောအ
ခါဘီးလေးမျက်နှာတို့သည် တညီတည်းဖြစ်၍
၁၇ မထည်ဘဲ သွားတတ်ကြ၏။- ဘီးဝန်း တို့သည်
ထည်းမြင့်၍ ကြောက်မက်ဖွယ် ဖြစ်ကြ၏။ ထို
၁၈ လေးပါးတို့သဉ်ရှက်မိနှင့်ပြည့်ကြ၏။-သတ္တဝါ
တို့သည် သွားသောအခါ၊ ဘီးတို့ သည်ထည်း
ထက်ကြပ်ပါကြ၏။ သတ္တဝါတို့သဉ်မြေကြီးနှင့်
ကွာ၍ တက် သော အခါ၊ ဘီး တို့ သည် ထည်း
၁၉ တက်ကြ၏။- ဝိညည်တော်သွားခွင့်ရှိသည် အ
ထိုင်း၊ သူတို့ သည်ထည်း သွား ကြ ၏။ ဘီး တို့
သည်ထည်း သူတို့နှင့်ထက်ကြပ်တက်၍ လိုက်
ကြ၏။ သတ္တဝါတို့၏ဝိညည်သည်ဘီးတို့၌ရှိ၏။-
၂၀ သူတို့ သွားသောအခါ ဘီးတို့သည် သွားကြ၏။
သူတို့ရပ်သောအခါဘီးတို့သည်ရပ်ကြ၏။သူတို့
သည်မြေကြီးနှင့်ကွာ၍တက်သောအခါ၊ဘီးတို့
သည်ထည်း သူတို့နှင့်ထက်ကြပ်တက်၍ လိုက်
ကြ၏။ အကြောင်းမူကား၊သတ္တဝါတို့၏ဝိညည်
သည်ဘီးတို့၌ရှိ၏။
၂၁ ထိုသတ္တဝါတို့၏ ခေါင်းများ အပေါ်မှာ မိုဃ်း
မျက်နှာ ကြက်၏ အဆင်း အ ရောင် သည် ရှိ၍၊
ကြောက်မက်ဖွယ်သော ကျောက်သထင်း မျက်
၂၂ နှာ ကြက်ကဲ့သို့ ဖြစ်၏။- မိုဃ်း မျက်နှာ ကြက်
အောက်[illegible]များသည်တခုသို့တ
ခုတည့်တည့် ဖြန့်လျက်ရှိ၍၊ ဖြင်ထက်၌လည်း
၂၃ ကိုယ်ကိုဖုံးစရာတို့အတောင် နှစ်ခုစီရှိ၏။- သူတို့
သွားသောအခါ သမုဒ္ဒရာရေသံကဲ့သို့၎င်း၊ အနန္တ
တန်ခိုးရှင်၏အသံတော်ကဲ့သို့၎င်း၊ အတောင်တို့
မြည်သောအသံကို ငါကြား၏။ စကား သံသည်
ထည်းလူအလုံးအရင်း၏ စကားသံကဲ့သို့ဖြစ်၏။
ရပ်သောအခါအတောင်တို့ကိုချလျက်နေကြ၏။-
၂၄ ရပ်၍ အတောင်တို့ကို ချ သော အခါ၊ သူ တို့ ၏
ခေါင်းများအပေါ်မှာ မိုဃ်းမျက်နှာကြက်ထဲက
စကားသံသည်ထွက်၏။
၂၅ သူတို့၏ ခေါင်းများ အထက်၊ မိုဃ်းမျက်နှာ
ကြက် အပေါ်၌ လည်း နီလာ ကျောက်ကဲ့သို့အ
ဆင်းအရောင်ရှိသော ရာဇပလ္လင်သဏ္ဌာန်ပေါ်
၏။ပလ္လင်သဏ္ဌာန်အပေါ်၌ထည်းလူပုံသဏ္ဌာန်
၂၆ ကဲ့သို့ပေါ်၏။- ပလ္လင်အတွင်း၌၎င်း၊ ပတ်လည်၌
၎င်း၊ ခါးသဏ္ဌာန်မှသည်အထက်ပိုင်း၌ဟာရှမေ
လရှ အရောင်နှင့် မီးအရောင် ကဲ့သို့ ထင်ရှား၏။
အောက်ပိုင်း၌မီးအရောင်ကဲ့သို့ထင်ရှား၍ပတ်
၂၇ လည်၌ထွန်းတောက်လေ၏။-ထိုသို့ထွန်းတောက်
**သော အရောင် သည် မိုဃ်း ရွာ သော နေ့ တွင်၊**
**မိုဃ်းတိမ်၌ ပေါ်သောသက်တံ့၏အရောင်ကဲ့သို့**
**ဖြစ်၏။ဤရွေကား၊ ထာဝရဘုရား၏ဘုန်းတော်**
**သဏ္ဌာန်အဆင်းအရောင်ဖြစ်သတည်း။**

၂

၁ ထိုဗျာဒိတ် ရူပါရုံကို ငါသည် မြင်သော အခါ
ပြပ်ဝပ်လျက်နေ၏။ တဦးသောသူကထည်း၊အ
ချင်းလူသား၊ မတ်တတ်နေလော့။ သင့်အား ငါ
၂ ပြောမည်ဟု၊ငအားဆိုသံကိုငါကြား၏။-ထိုသို့
ဆိုသောအခါ ဝိညည်တော်သည်ငအထဲသို့ဝင်
၍မတ်တတ်နေစေသဖြင့်၊ငါနှင့်ပြောသောသူ၏
၃ စကားကို ငါကြားသည်ကား၊- အချင်းလူသား၊
ငကို ပုန်ကန်တတ်သောအမျိုး တည်းဟူသော၊
ယနေ့တိုင်အောင် ထိုးထေးတို့နှင့်တကွ ငကိုအ
စည်ပုန်ကန်၍၊ ဖြစ်မှားသော ဣသရေလအမျိုး
၄ သားတို့ ရှိရာသို့ သင့် ကို ငါစေလွှတ် မည်။- ရဲ
သောမျက်နှာ နှင့်ခိုင်မာသောနှစ်လုံးရှိသော အ
မျိုးသားတို့ ရှိရာသို့ သင့်ကို ငါစေလွှတ်၍၊ သင်
က၊ အရှင်ထာဝရဘုရားမိန့်တော်မူသည်ဟု၊သူ
၅ တို့အား ပြောရမည်။- သူတို့သည်ပုန်ကန်တတ်
သောအမျိုးဖြစ်၍၊နားထောင်သည်ဖြစ်စေ၊နား
မထောင်သည် ဖြစ်စေ၊ မိမိတို့တွင် ပရောဖက်ရှိ
၆ သည်ကိုသိရကြမည်။-အချင်း[illegible]သင်သဉ်

ရုန်းကန်ခြင်းအမျိုး၏အကြားနှင့်တွေ့၍ ကင်းမြီးကောက်ထဲ
တွင် နေရသော်လည်း၊ သူတို့ကို မကြောက်နှင့်။
သူတို့စကားကိုလည်းမကြောက်နှင့်၊သူတို့သည်
ပုန်ကန်တတ်သောအမျိုးဖြစ်၍၊သူတို့စကားကို
မကြောက်နှင့်၊ သူတို့မျက်နှာရည်ကြောင့် စိတ်
၇ မပျက်နှင့်။- သူတို့ သည် အလွန် ပုန်ကန် တတ်
သော သဘောရှိသည် ဖြစ်၍၊ နား ထောင်သည်
ဖြစ်စေ၊ နား မထောင်သည်ဖြစ်စေ၊ ငါ့စကား ကို
၈ သူတို့အား ဟောပြောရမည်။- အချင်းလူသား၊
ငါပြောသောစကားကိုနားထောင်လော့၊ထိုပုန်
ကန် တတ် သော အမျိုး ကဲ့သို့ ပုန်ကန်သော သ
ဘောမရှိနှင့်၊ သင့်ပါးစပ်ကိုဖွင့်၍ငါ ပေးသောအ
ရာကိုစားလော့ဟုမိန့်တော်မူလျှင်၊-ငါကြည့်၍
စာလိပ်ပါသောလက်သည်ငါ့ဆီသို့ ဆန့်လျက်ရှိ
၁၀ ၏။- ထိုစာလိပ်ကိုငါ့ရှေ့မှာ ဖွင့်ဖြန့်သောအခါ၊
ထိုစာ၏ တချက်၌ အကွရာ တင်၍ ငိုကြွေး မြည်
တမ်းခြင်း၊ အချက်၊ စိတ်မသာညည်းတွားခြင်း
အချက်၊အမင်္ဂလာအချက်တို့ပါသတည်း။

၃

၁ တဖန်၊အချင်းလူသား၊သင်တွေ့သောအရာကို
စားလော့။ဤစာလိပ်ကိုစားပြီးလျှင်၊ဣသရေလ
အမျိုး သား တို့ ရှိ ရာ သို့ သွား ၍ ဟော ပြော
၂ လော့ ဟု မိန့် တော် မူသည် အတိုင်း၊- ငါ သည်
ပါးစပ်ကိုဖွင့်စဉ် ထိုစာလိပ်ကို ခွံ့တော်မူလျက်၊-
၃ အချင်းလူသား၊ငါပေးသောဤစာလိပ်ကိုစား၍
ဝမ်းပြည့်စေလော့ဟု မိန့်တော်မူသည်အတိုင်း၊
ငါသည်စား၍ပါးစပ်၌ပျားရည်ကဲ့သို့ချို၏။
၄ တဖန်၊အချင်းလူသား၊ဣသရေလအမျိုးသား
တို့ရှိရာသို့သွား၍ငါ့စကားကိုဟောပြောလော့။-
၅ သင် မသိ မကျွမ်း၊ နား လည် ခဲသော စကားကို
ပြော တတ် သော လူ မျိုး ရှိရာသို့ သင့်ကို ငါစေ
လွှတ်သည် မဟုတ်၊ ဣသရေလ အမျိုး ရှိရာသို့
၆ စေလွှတ်၏။- သင်မသိမကျွမ်း၊နားလည်ခဲသော
စကား၊ အလျှင်းနားမလည်နိုင်သော စကားကို
ပြောတတ်သောလူအမျိုးမျိုးတို့ရှိရာသို့ စေလွှတ်
သည်မဟုတ်၊ အကယ်၍ထိုသို့သော သူတို့ရှိရာ
သို့စေလွှတ်လျှင်၊ သင့်စကားကို နား ထောင်ကြ
၇ လိမ့် မည်။- ဣသရေလ အမျိုး တို့ မူကား၊ သင့်
စကားကို နားမထောင်ကြ၊ ငါ့စကားကိုပင် နားမ
ထောင်ကြ၊ ဣသရေလအမျိုးသား အပေါင်းတို့
သည်မိုက်မာသောနဖူးနှင့် မိုက်မာသောနှလုံးရှိ
၈ ကြ၏။- ထိုရာတွင်၊ သူတို့မျက်နှာအဖက်၌သင်
၏မျက်နှာကိုခိုင်ခံ့၍၊သူတို့နဖူးအဖက်၌သင်၏နဖူး
၉ ကိုခိုင် ငါခိုင်ခံ့စေပြီ။- သင်၏ နဖူးကို ကျောက်
ထက်မက၊ မီးကျောက်ထက် ခိုင်မာစေပြီ။ သူတို့
သည် ပုန်ကန်တတ်သောအမျိုးဖြစ်၍၊ သင်သည်
မကြောက်နှင့်၊ သူတို့မျက်နှာရည်ကြောင့် စိတ်
မပျက်နှင့်ဟုမိန့်တော်မူ၏။
၁၀ တဖန်၊ အချင်းလူသား၊ သင့်အား ငါပြော ထ
တ်သမျှသော စကားတို့ကို နားထောင်၍ နှလုံး
၁၁ သွင်းလော့။- သိမ်းသွားခြင်းကို ခံရသောသင်
၏အမျိုးသားချင်းတို့ရှိရာသို့သွား၍၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ဟု၊ သူတို့နားထောင်
သည်ဖြစ်စေ၊ နားမထောင်သည်ဖြစ်စေ၊ ဟော
ပြောလော့ဟုမိန့်တော်မူ၏။
၁၂ ထိုအခါဝိညာဉ်တော်သည် ငါ့ကိုချီ၍၊ထာဝရ
ဘုရား ကျိန်းဝပ် တော်မူရာ အရပ်မှ ဘုန်းတော်
သည် မင်္ဂလာရှိစေသတည်းဟု၊ ငါ့နောက်၌ကြီး
၁၃ စွာသော လှုပ်ရှားခြင်းအသံကိုငါကြား၏။ ထ
ရုနှင့် တခု စပ် လျက် ရှိသော သတ္တဝါ တို့၏ အ
တောင်များ မြည်သံကိုငှင်၊ သူတို့အနားမှာ ဘီး
များမြည်သံကိုငှင်၊ ကြီးစွာသော လှုပ်ရှားခြင်း
၁၄ အသံကိုငှင်ငါကြားရ၏။- ဝိညာဉ်တော်သည်ငါ့
ကို ချီသွားတော်မူ၍၊ ငါသည် ခါးသောစိတ်၊ ပူ
ပန်သော စိတ်နှင့် လိုက်ရ၏။ ထာဝရ ဘုရား၏
လက်တော်သည် ငါ့ အပေါ်မှာ လေးလံစွာ ထပ်
၁၅ လျက်ရှိ၏။-သိမ်းသွားခြင်းကိုခံရ၍၊ခေဗာမြစ်
နား၊ တေလ‌ဗိဗရွာ ၌နေရာကျသော သူတို့ရှိရာ
သို့ ငါရောက်၍၊ သူတို့ နေရာအရပ်၌ ခုနှစ်ရက်
ပတ်လုံးမိန်းမောတွေဝေလျက်နေ၏။
၁၆ ခုနှစ်ရက် လွန် မှ ထာဝရ ဘုရား ၏ နှုတ်က
၁၇ ပတ်တော်သည်ငါ့ဆီသို့ရောက်လာ၍- အချင်း
လူသား၊ သင့် ကို ဣသရေလ အမျိုး တွင် ကင်း
စောင့်အရာ၌ငါခန့်ထားသောကြောင့်၊ငါ့အထံ
ပေးသောစကားကိုနားထောင်၍သူတို့အားဆင့်
၁၈ ဆိုလော့။-သင်သည်အမှန်သေလိမ့်မည်ဟု၊လူ
ဆိုးအားငါပြောလျက်နှင့်သင်သည်သတိမပေး၊
လူဆိုး၏ အသက်ကိုချမ်းသာစေခြင်းငှါ၊ လူဆိုး
အားသတိပေးသောစကားကိုမပြောဘဲနေလျှင်၊
ထိုလူဆိုးသည်မိမိအပြစ်၌ သေလိမ့်မည်၊ သူ၏
၁၉ အသက်ကိုကား၊ သင်၌ငါတောင်းမည်။- သို့မ
ဟုတ်၊ သင်သည်လူဆိုးကို သတိပေးလျက်နှင့်
သူသည် မိမိ ဆိုး သော ဒုစရိုက် ကို ငှင်၊ မိမိ ဆိုးထိ
သောအခမ္မသမ်းကိုငှင် မရှောင်ဘဲနေလျှင်၊ မိမိ

ရှုတ်ချခြင်းမပြုကြောင့်၊ နှုတ်ကိုမဖွင့်ဘဲနေရလိမ့်မည်
ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။

၁၇

၁ ထာဝရဘုရား၏ နှုတ်ကပတ် တော်
၂ သည် ငါ့ဆီသို့ ရောက်လာ၍၊- အချင်း လူသား၊
သင်သည် ဣသရေလ အမျိုး အား စကား ထာ
၃ ဝှက်၍ ပုံပြောလျက်၊- ထာဝရဘုရားမိန့်တော်မူ
သော စကားကို ဆင့်ဆိုရမည်မှာ၊ ထူးခြားသော
အဆင်း၊ အရောင်၊ ရှားပြားသော အမွေး နှင့်ပြည့်
စုံ၍၊ ရှည်လျား ကြီးမားသော အတောင်ရှိသော
ရွှေလင်းတကြီးသည် လေဗနုန်တောင်သို့ လာ၍
၄ အာရဇ်ပင်၏ အဖျားကိုကိုင်လျက်၊- အမြင့်ဆုံး
သော အညွန့်ထိပ်ကို ချိုး၍ ကုန်သွယ်ရာပြည်
သို့ ဆောင် ပြီးလျှင်၊ ကုန်သည်မြို့၌ စိုက်ထား
၅ ၏။- မျိုးစေ့ကိုလည်းယူ၍ရေများရာ လယ်ကွက်
၆ ၌စိုက်လျက်၊ မိုးမခပင်ကဲ့သို့ထားလေ၏။-အ
ရပ်နိမ့်လျက် ရှည်လျား စွာနှံ့ သော စပျစ်နွယ်
ပင်ပေါက်၍၊ မိမိအခက်အထက်တို့ကို ရွှေလင်း
တမီရာသို့ညွှတ်လျက်၊ လင်းတအောက်သို့ အမြစ်ထိုး
သွင်း၊ အကိုင်းအခက် အထက် အညွန့်တို့ နှင့်
၇ ပြည့်စုံသော စပျစ်နွယ်ပင်ဖြစ်လေ၏။-အမွေးထူ
ထပ်၍ ကြီးစွာသော အတောင်ရှိသော ရွှေလင်း
တကြီးလည်းရှိ၏။ စပျစ်ပင်သည် မိမိစိုက်ရာ
ချောင်းမြောင်းနားမှာ ထိုရွှေလင်းတ၏ကျေးဇူး
ကြောင့်၊ ရေကို ရအံ့ သောငှါ သူ့ရှိရာသို့ အမြစ်
၈ လွှတ်ပိုက်၍ အကိုင်းလည်းထိုးလေ၏။- အခက်
အထက်နှင့် ပြည့်စုံ၍ အသီးကိုသီးသဖြင့်၊ ထွန်း
ပြောင်သော စပျစ်နွယ်ပင် ဖြစ်စေခြင်းငှါ ရေများရာ
အရပ်၊ မြေကောင်းသော လယ်ကွက်၌ ထိုအပင်
၉ ကို စိုက်ထားပြီ။-သို့ဖြစ်၍၊ အရှင်ထာဝရဘုရား
၏အမိန့် တော် ကို ဆင့် ဆို ရမည် မှာ၊ ထို အပင်
သည်ကောင်းစားရမည်လော။ ညှိုးနွမ်းစေခြင်း
ငှါအမြစ်ကိုနှုတ်၍ အသီးကိုဖြတ်ရမည်မဟုတ်
လော။ပေါက်လေသမျှသောအရွက်တို့သည်ညှိုး
နွမ်းရ ကြလိမ့်မည်။ အမြစ်နှင့် တကွ နုတ်သင်
ပယ်ရှင်းခြင်းအမှုကို ပြုစေခြင်းငှါ ကြီးသော
တန်ခိုး၊များပြားသော အလုံးအရင်းကို အလိုမ
၁၀ ရှိ။- စိုက်လျက်ရှိ၍ကောင်းစားရမည်လော။ အ
ရှေ့လေတိုက်သောအခါ အကုန်အစင်ညှိုးနွမ်း
ရမည်မဟုတ်လော။ ကြီးပွားသော လယ်ကွက်
၌ညှိုးနွမ်းရလိမ့်မည်ဟုမိန့်တော်မူ၏။
၁၁ ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၁၂ ငါ့ဆီသို့ ရောက်လာ၍၊- ပုန်ကန်တတ်သော အ
မျိုး၊ အားဆင်ခြေပြောရမည်မှာ၊ ဤစကား၏ အဓိပ္ပါယ်
ကို ဆိုလိုသည်ကို နားမလည်ကြ သလော။ ဗာ
ဗုလုန်ရှင်ဘုရင်သည် ယေရုရှလင်မြို့သို့ ရောက်
၍၊ ယေရုရှလင်ရှင်ဘုရင်နှင့် မှူးတော်မတ်တော်
၁၃ တို့ကိုဗာဗုလုန်မြို့သို့ သိမ်းသွားပြီ။- ဆွေတော်
မျိုးတော်ထဲကတယောက်ကိုယူ၍ ပဋိညာဉ်ဖွဲ့
၁၄ လျက် ကျိန်ဆိုတိုက်လေပြီ။-ထိုနိုင်ငံသည် ယုတ်
ညံ့၍ နောက်တဖန်မထမကြွဘဲ၊ ကျိန်ဆိုတော်ကို
စောင့်သောအားဖြင့်သာ တည်စေခြင်းငှါ၊ အား
ကြီးသော နိုင်ငံသားတို့ကိုလည်းသိမ်းသွားပြီ။-
၁၅ ထိုရာတွင်၊ မြင်းများ၊ လူများတို့ကိုတောင်းခြင်း
ငှါ သံတမန်ကို အဲဂုတ္တုပြည်သို့ စေလွှတ်၍ ပုန်
ကန်လေပြီ။ ထိုသို့ ပြုသောသူသည် ကောင်းစား
ရမည်လော။ ဘေးလွတ်ရမည်လော။ ကျိန်ဆိုတော်
၁၆ ပြုမှ လွတ်ရမည်လော။- အရှင်ထာဝရဘုရား
မိန့်တော် မူသည်ကား၊ ငါအသက်ရှင်သည် အ
တိုင်း၊ အကယ်စင်စစ်ရှင်ဘုရင် အရာ၌ ခန့်ထား
သော ရှင် ဘု ရင်၏ ကျိန်ဆို ကို မရိုမသေ ပြု၍
ပဋိညာဉ်ကိုဖျက်သောကြောင့်၊ ထိုရှင်ဘုရင်နေ
၁၇ ရာ ဗာဗုလုန်မြို့အထဲ၌ သေရလိမ့်မည်။- ဖာ
ရောဘုရင်သည်လည်း လူများတို့ကို ထိတ်ခြင်း
ငှါ၊ အားကြီး သော မြို့ပေါ် အလုံးအရင်း များ
နှင့်အတူ မြေရိုးတို့ကိုဖို၍ရဲတိုက်တို့ကိုဆောက်
၁၈ သော်လည်း၊ သူ့အဖို့ စစ်တိုက်၍ မနိုင်ရာ။- အ
ကြောင်းမူကား၊ ယေရုရှလင် မင်း၊ ထည် ထက်
ချင်း ရိုက်ပြီးမှ၊ ကျိန်ဆို တော်ကို မရိုမသေ ပြု၍
ပဋိညာဉ်ကိုဖျက်လျက်၊ဤအမှုအလုံးစုံတို့ကိုပြု
၁၉ သောကြောင့်ဘေးမှမလွတ်ရ။- ထိုကြောင့်၊ အ
ရှင် ထာဝရဘုရားမိန့် တော်မူသည်ကား၊ ငါအ
သက် ရှင် သည် အ တိုင်း၊ အ ကယ် စင် စစ် ငါ၏
ကျိန်ဆိုကို မရိုမသေ ပြု၍ ငါ၏ပဋိညာဉ်ကို ဖျက်
သော အ ပြစ် ကို သူ ၏ ခေါင်း ပေါ် သို့ ငါ သက်
၂၀ ရောက်စေမည်။-ငါသည်ပိုက်ကွန်နှင့်ဖမ်း၍၊ငါ
၏ကျော့ကွင်းနှင့်ကျော့ပြီးလျှင်၊ ဗာဗုလုန်မြို့သို့
ဆောင် သွား မည်။ ငါ့ကို ပြစ်မှားသော အပြစ်
၂၁ ကြောင့် ထိုမြို့၌ ငါစစ်ကြောစီရင်မည်။-သူ့ထံမှ
ပြေးသောသူများနှင့်သူရဲများအပေါင်းတို့သည်
ထားဖြင့်ဆုံးခြင်းသို့ရောက်၍၊ကျန်ကြွင်းသော
သူတို့သည်အရပ်ရပ်သို့ကွဲပြားကြလိမ့်မည်။ ငါ
ထာဝရဘုရား မိန့်တော်မူသည်ကို သင်တို့ သိရ
ကြလိမ့်မည်ဟုမိန့်တော်မူ၏။

၂၂ ထာဝရအရှင်ဘုရား မိန့်တော်မူသည်
ကား၊ မြင့်သောအာရဇ်ပင်၌ အမြင့်ဆုံးသောအ
ညွန့်ကိုငါယူ၍ စိုက်မည်။ အညွန့်ဖူးထိုပွင့်နု
သော အညွန့်ကိုဆိတ်၍၊ မြင့်မြတ်သောတောင်
၂၃ ပေါ်မှာငါစိုက်ပျိုးမည်။- အမြင့်ဆုံးသောဣသ
ရေလတောင်ပေါ်မှာငါစိုက်ပျိုး၍၊ အခက်အ
လက်နှင့်ပြည့်စုံ၍ အသီးကိုသီးသဖြင့်၊ ကောင်း
မွန်သော စပျစ်နွယ်ပင် ဖြစ်လိမ့်မည်။ ထိုအပင်
အောက်၌ရှင်၊ အခက်အလက်အရိပ်၌ရှင်၊ ငှက်
၂၄ မျိုးအပေါင်းတို့သည်နေရာကျကြလိမ့်မည်။- ငါ
ထာဝရဘုရားသည် မြင့်သော အပင်ကို နှိမ့်၍၊
နိမ့်သော အပင် ကို မြှင့်ကြောင်း၊ စိမ်း
လန်း သော အပင် ကို သွေ့ခြောက် စေ၍၊ သွေ့
ခြောက် သော အပင်ကို စိမ်းလန်းစေကြောင်း
များကို၊ တော သစ်ပင် ရှိသမျှတို့သည် သိရကြ
လိမ့်မည်။ ငါထာဝရဘုရားသည်ကားတော်ရှိ
သည်အတိုင်းပြုမည်ဟုမိန့်တော်မူ၏။

၁၈

၁ ထာဝရ ဘုရား၏ နှုတ်ကပတ် တော်
၂ သည်ငါ့ဆီသို့ရောက်လာ၍၊- အဘတို့သည် ချဉ်
သော စပျစ် သီး ကို စား၍ သား တို့ သည် သွား
ကြိန်းလျက်ရှိကြ၏ဟု၊ သင်တို့သည်ဣသရေလ
ပြည်ကိုရည်မှတ်၍ စကား ပုံကိုသုံး သောအခါ
၃ အ ဘယ် သို့ ဆိုလို သ နည်း။- အရှင် ထာ ဝ ရ
ဘုရား မိန့် တော် မူသည် ကား၊ ငါ အသက် ရှင်
သည်အတိုင်း၊ နောက်တဖန် ဣ သရေလ ပြည် ၌
ထို စကား ပုံကို သုံးရ သော အကြောင်း မရှိ ရ။-
၄ ဝိညာဉ်အပေါင်း တို့ကိုငါပိုင်၏၊ အဘ၏ဝိညာဉ်
ကို ငါပိုင်သကဲ့သို့ သား၏ဝိညာဉ်ကိုလည်း ငါ
ပိုင်၏။ ပြစ်မှားသောဝိညာဉ်သည် အသက်သေ
၅ ရမည်။-လူမည်သည်ကား၊ သူတော်ကောင်းဖြစ်၍ တ
ရား သောအမှု၊ တုတ်မှန် သော အမှုကို ပြုလျှင်
၎င်း၊-တောင်ပေါ်မှာမစား၊ ဣသရေလအမျိုးကိုး
ကွယ်သော ရုပ်တုတို့ကို မမှူး မမျှော်၊ သူ့ မယား
ကို မပြစ်မှား၊ ဥတု ရောက် သောမိန်းမကို မချဉ်း
၇ ကပ်၊- အဘယ်သူကိုမျှ မညှဉ်းဆဲ၊ ကြွေးစား
ပေါင်ထားသောဥစ္စာကိုပြန်၍ မပေးဘဲမနေ၊ သူ့
ဥစ္စာကို အနိုင်အထက်မလုမယူ၊ငတ်မွတ်သော
သူကို ကျွေးမွေး၍၊ အဝတ်မရှိ သော သူကို အ
၈ ဝတ်နှင့်ရုံးထွေးလျှင်၎င်း၊- အတိုးစား၍ ငွေကို
မချေး၊ အဓမ္မအမှုကိုထိတ်မခံ၊ လူတပါး၊ အမှုကို
၉ တရားသဖြင့်စီရင်ခြင်း၊-ငါ့စီရင်ထုံးဖွဲ့တည်းအ
တိုင်းကျင့်၍ သစ္စာစောင့်ခြင်းကိုပြုလျှင်၊ ထို
သူသည် ဖြောင့်မတ်သောသူဖြစ်၏။ အသက်ရှင်
စင် အသက်ရှင် ရလိမ့်မည်ဟု၊ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၀ သို့ရာတွင်၊ ထိုသူ၏ သား သည် လုယက်
တတ်သောသူ၊ လူအသက်ကိုသတ်သောသူ၊ အရင်ဆို
၁၁ ခဲ့ပြီးသော ဒုစရိုက်တစုံတခုကို ပြုသောသူ- အ
ရင်ဆိုခဲ့ပြီးသော သုစရိုက်ကိုမပြု၊ တောင်ပေါ်
၁၂ မှာစားခြင်း၊ သူ့မယားကိုပြစ်မှားခြင်း။- ဆင်းရဲ
ငတ်မွတ်သောသူကို ညှဉ်းဆဲခြင်း၊ သူ့ဥစ္စာကို
အနိုင်အထက်လုယူခြင်း၊ ပေါင်ထားသောဥစ္စာ
ကိုပြန်၍ မပေးဘဲ နေ ခြင်း။ ရုပ်တုကို မျှော်
၁၃ ခြင်း။ ရွံရှာဖွယ် သော အမှုကို ပြုခြင်း။- အတိုး
စား၍ ငွေချေး ခြင်းကို ပြု သော သူ ဖြစ်လျှင်၊ အ
သက်ရှင်ရမည်လော၊ အသက်မရှင်ရ။ ထိုရွံရှာ
ဖွယ်သောအမှုများကိုပြုသောကြောင့်၊ စင်စစ်အ
သေသတ် ခြင်းကို ခံရမည်။ သေထိုက် သော အ
ပြစ်ရှိ၏။
၁၄ သို့ရာတွင်၊ ထိုသူ၏ သား သည် အဘ ပြု သ မျှ
သောဒုစရိုက်တို့ကို မြင်၍ဆင်ခြင်သဖြင့်၊ ထိုသို့
၁၅ သော အမှုတို့ကို မပြု၊-တောင်ပေါ်မှာ မစား၊ ဣ
သရေလ အမျိုးကိုးကွယ်သောရုပ်တုတို့ကို မမှူး
၁၆ မမျှော်၊ သူ့မယားကိုမပြစ်မှား၊- အဘယ်သူကို
မျှမညှဉ်းဆဲ၊ ပေါင်ထားသောဥစ္စာကိုမသိမ်း၊
သူ့ဥစ္စာ ကို အနိုင် အထက် မလု မယူ၊ ငတ်မွတ်
သောသူကို ကျွေးမွေး ခြင်း၊ အဝတ်မရှိ သောသူ
၁၇ ကိုအဝတ်နှင့်ရုံးထွေးခြင်း၊-ဆင်းရဲ သောသူကို
ချမ်းသာပေးခြင်း။ အတိုးမစားဘဲငွေချေးခြင်းကို
ပြု၍ငါ့စီရင်ထုံးဖွဲ့ချက်တို့ကိုစောင့်ရှောက်လျှင်၊
ထိုသူသည်အဘ၏အပြစ်ကြောင့် အသေခံရမည်
၁၈ မဟုတ်၊ စင်စစ်အသက်ရှင်ရလိမ့်မည်။- အဘမူ
ကား၊ မိမိညီအစ်ကိုကို အထပ်ထပ် ညှဉ်းဆဲ
လျက်၊ သူ့ဥစ္စာကိုအနိုင်အထက်လုယူလျက်၊ မိမိ
အမျိုးသား ချင်းတို့တွင် မကောင်း သော အမှုကို
ပြုသောအပြစ်ကြောင့်၊ အသေသတ်ခြင်းကို ခံရ
၁၉ မည်။- သင်တို့ကလည်း၊ အဘယ်သို့နည်း။ သား
သည် အဘ၏အပြစ်ကို မခံရသလောဟု မေးကြ
သော်၊ သားသည် တရား သော အမှု၊ တုတ်မှန်
သောအမှုကိုပြု၍၊ ငါ့စီရင်ထုံးဖွဲ့သမျှ အတိုင်း
ကျင့်စောင့်လျှင်၊ စင်စစ်အသက်ရှင်ရလိမ့်မည်။-
၂၀ ပြစ်မှား သော သူ သည် အ သေခံ ရမည်။ သား
သည် အဘ၏အပြစ်ကိုမခံရ၊ အဘသည် သား၏

အပြစ်ကိုမခံရ။ တရားသောသူသည် တရားစွာ
ပြုခြင်းအကျိုးကိုရ၍၊ မတရားသောသူသည်မ
၂၁ တရားစွာပြုခြင်းအပြစ်ကိုရခံရလိမ့်မည်။- သို့
ရာတွင်၊ မတရားသောသူသည် မိမိပြုမိသမျှ
သောဒုစရိုက်တို့ကို ကြည်ရှောင်လျက်၊ ငါ၏စီရင်
ထုံးဖွဲ့သမျှတို့ကို စောင့်ရှောက်၍၊ တရားသော
အမှု၊ ဟုတ်မှန်သောအမှုတို့ကိုပြုလျှင်၊သေခြင်း
၂၂ နှင့် လွတ်၍ စင်စစ် အသက် ရှင်ရလိမ့်မည်။- ပြု
မိသမျှသော ဒုစရိုက် အပြစ်တို့ကို သူ့တဖက်၌
မမှတ်ရ။ ပြုမိသောဖြောင့်မတ်ခြင်းအမှုကြောင့်
၂၃ အသက်ရှင်ရလိမ့်မည်။-မတရားသောသူသည်
မိမိအကျင့်တို့ကိုရှောင်၍အသက်မရှင်။ အသေ
ခံခြင်းအမှု၌ ငါသည်အနည်းငယ်သောပျော်မွေ့
၂၄ ခြင်းရှိသလော။- သို့ရာတွင်၊ တရားသောသူ
သည် ဖောက်ပြန်၍၊အဓမ္မအမှုကိုရ၍၊ မတရား
သောသူ ပြုသမျှသော စက်ဆုပ်ရွံရှာဖွယ် အမှု
တို့ကိုရ၍ ပြုလျှင်၊ အသက် ရှင်ရမည်လော။ အ
ရင် ပြုသမျှသော ဖြောင့် မတ်ခြင်း အမှုတို့ ကို
မမှတ်။ သူသည် လွန်ကျူးသော အမှု၊ ပြစ်မှား
သော အပြစ် ကြောင့် အသေ သတ် ခြင်းကို ခံ ရ
လိမ့်မည်။
၂၅ သို့သော်လည်း သင် တို့က၊ ထာဝရ ဘုရား
စီရင် ချက် မဖြောင့်ဟု ဆိုကြသည် တကား။ ဣ
ဣသရေလအမျိုး၊ငါ၏စီရင် ချက် သည်ဖြောင့် ၏၊
သင်တို့ စီရင်ချက်ကောက်သည် မဟုတ်လော။-
၂၆ တရား သောသူသည် တရားသောအမှုကို ပယ်
၍အဓမ္မ အမှုကို ပြုလျှင်၊ ထိုအမှု ကြောင့် သေရ
မည်။ ပြုမိသောအဓမ္မအမှုကြောင့် အသေသတ်
၂၇ ခြင်းကို ခံရမည်။- ထိုအတူ၊ မတရား သော သူ
သည်မိမိပြုမိသောအဓမ္မအမှုကိုရှောင်၍၊တရား
သောအမှု၊ဟုတ်မှန်သောအမှုကိုပြုလျှင်၊ မိမိအ
၂၈ သက်ကိုကယ်နှုတ်ရလိမ့်မည်။- ပြုမိသမျှသော
အဓမ္မအမှုတို့ကိုဆင်ခြင်၍ရှောင်သောကြောင့်၊
သေခြင်း နှင့် လွတ်၍ စင်စစ် အသက် ရှင်ရလိမ့်
၂၉ မည်။- သို့ သော် လည်း၊ ဣသရေလ အမျိုး က၊
ထာဝရဘုရားစီရင်ချက်မဖြောင့်ဟုဆိုကြသည်
တကား။ဣဣသရေလအမျိုး၊ငါ၏စီရင်ချက်သည်
ဖြောင့်၏၊ သင် တို့ စီ ရင် ချက် ကောက် သည် မ
၃၀ ဟုတ်လော။- သို့ဖြစ်၍၊ ဣဣသ ရေလ အမျိုး၊
သင်တို့ အသီး အသီး ကျင့် ကြသည် အတိုင်း အ
ကျိုးအပြစ်ကိုငါစီရင်မည်။ သင်တို့သည်အဓမ္မ
အမှုရှိသမျှတို့ကိုစွန့်ပြစ်၍ပြောင်းလဲကြလော့။
ပြောင်းလဲကြလော့။ဒုစရိုက်အပြစ်ကြောင့်ထိမိ
၃၁ ၍ဆုံးခြင်းသို့မရောက်ကြနှင့်။- သင်တို့သည်ပြု
သမျှသော လွန်ကျူးခြင်း အမှုတို့ကို စွန့်ပြစ်၍
အသစ်သောနှစ်လုံး၊ အသစ်သော ဝိညာဉ်
ကိုပျှင်ဆင်ကြလော့။ ဣဣသရေလအမျိုး၊သင်
တို့သည် အဘယ်ကြောင့်အသေသတ်ခြင်းကိုခံ
၃၂ လိုသနည်း။- အသေခံရသောသူ၏အသေခံခြင်း
အမှု၌ ငါသည် ပျော်မွေ့ ခြင်း မရှိ။ ထိုကြောင့်၊
ပြောင်း လဲ၍ အသက် ရှင်ကြ လော့ ဟု၊ အရှင်
ထာဝရဘုရားမိန့်တော်မူ၏။

၁၉

၁ ထိုမှတပါး၊ ဣသရေလမင်းသားတို့အတွက်
၂ ငိုကြွေးမြည်တမ်းလျက်ပြောရမည်မှာ၊- သင်၏
အမိကား အဘယ်သူနည်း။ ခြင်္သေ့မဖြစ်၏။ ခြင်
သေ့တို့တွင်အိပ်လျက်နေ၍၊ ခြင်္သေ့ပျိုတို့တွင်မိ
၃ မိသားတို့ကိုကျွေးမွေး၏။- ကျွေးမွေးသောသား
တ ကောင်သည် ခြင် သေ့ ပျို ဖြစ် ၍၊ တော တိ
ရိစ္ဆာန် တို့ကို ဖမ်းဆီး ခြင်းငှါ၊ သင်၏လူတို့ကို
၄ လည်းကိုက်စားတတ်၏။- လူမျိုးတို့သည်ကြား
၍ မြေတွင်း၌ ထိုခြင်္သေ့ပျိုကို ဖမ်းပြီးလျှင်၊ သံ
ကြိုးနှင့် ချည်နှောင်၍ အဲဂုတ္တုပြည်သို့ ယူသွား
၅ ကြ၏။- သားဆုံးရှုံးကြောင်းကိုအမိသည်မြင်၍
မိတ်ပျက် သောအခါ၊ သားတကောင် ကိုယူပြန်
၆ ၍၊ခြင်္သေ့ပျိုဖြစ်စေခြင်းငှါပြုသဖြင့်၊- သူသည်
လည်း၊ ခြင်္သေ့တို့ နှင့် ပေါင်းဖော်၍ ခြင်္သေ့ ပျို
ဖြစ်လျက်၊ တော တိရိစ္ဆာန် တို့ကို ဖမ်းဆီးခြင်း
၇ ငှါ၊သင်၏လူတို့ကိုလည်းကိုက်စား၏။- သူတို့မု
ဆိုးမှားကိုသိ၍၊သူတို့မြို့မှားကိုသုတ်သင်ပယ်
ရှင်းလေ၏။ ဟောက် သော အသံကြောင့် ပြည်
နှင့် ပြည်၌ ရှိသမျှတို့သည် ဆိတ်ညံလျက် ရှိကြ
၈ ၏။- ထိုအခါ လူမျိုးတို့သည်ကျေး ထက် အရပ်
ရပ်တို့က တိုက်လာ၍ပိုက်ကွန်နှင့်ပိုင်းပြီးလျှင်၊
၉ မြေ တွင်း၌ ဖမ်း ကြ၏။- သံကြိုးနှင့် ချည်နှောင်
လျက်ဗာဗုလုန် ရှင်ဘုရင်ထံသို့ ဆောင်သွား၍၊
သူ ၏ အသံ သည် ဣသရေလ တောင် ပေါ်မှာ
နောက် တဖန် မကြားရစေခြင်းငှါ နှောင် အိမ်၌
လှောင်ထားကြ၏။
၁၀ သင်၏အမိသည် သင်နှင့် တူလျက်၊ ရေနား
မှာစိုက်သော စပျစ်နွယ်ပင်ကဲ့သို့ဖြစ်၏။ ရေများ
သောကြောင့် အခက်အလက်နှင့်ပြည့်စုံ၍၊များ
၁၁ စွာသော အသီးကိုသီးတတ်၏။- မင်းတို့ အသုံး
အဆောင် ရာဇလှံတံဘို့ ခိုင်ခံ့သောတံများတို့နှင့်

၂၂ တဖန် အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ မြင့်သောအာရဇ်ပင်၌ အမြင့်ဆုံးသောအ
ညွန့်ကိုငါယူ၍ စိုက်မည်။ အညွန့်ဖျားတို့တွင်နု
သော အညွန့်ကိုဆိတ်၍၊ မြင့်မြတ်သောတောင်
၂၃ ပေါ်မှာငါစိုက်ပျိုးမည်။- အမြင့်ဆုံးသောဣသ
ရေလတောင်ပေါ်မှာငါစိုက်ပျိုးပြီးမှ၊ အခက်အ
လက်နှင့်ပြည့်စုံ၍အသီးကိုသီးသဖြင့်၊ ကောင်း
စွာသော အာရဇ်ပင် ဖြစ်လိမ့်မည်။ ထိုအပင်
အခက်၌ရှင်၊ အခက်အလက်အရိပ်၌ရှင်၊ ငှက်
၂၄ မျိုးအပေါင်းတို့သည်နေရာကျကြလိမ့်မည်။-ငါ
ထာဝရဘုရားသည် မြင့်သော အပင်ကို နှိမ့်၍၊
နိမ့်သော အပင်ကို ချီးမြှောက်ကြောင်း၊ စိမ်း
လန်းသော အပင်ကို သွေ့ခြောက်စေ၍၊ သွေ့
ခြောက်သော အပင်ကို စိမ်းလန်းစေကြောင်း
များကို၊ တောသစ်ပင် ရှိသမျှတို့သည် သိရကြ
လိမ့်မည်။ ငါထာဝရဘုရားသည်စကားတော်ရှိ
သည်အတိုင်းပြုမည်ဟုမိန့်တော်မူ၏။

၁၈

၁ တဖန် ထာဝရဘုရား၏ နှုတ်ကပတ်တော်
၂ သည်ငါ့ဆီသို့ရောက်လာ၍၊- အဘတို့သည် ချဉ်
သော စပျစ်သီးကို စား၍ သားတို့သည် သွား
ကြိန်းလျက်ရှိကြ၏ဟု၊ သင်တို့သည်ဣသရေလ
ပြည်ကိုရည်မှတ်၍ စကားပုံကိုသုံးသောအခါ
၃ အဘယ်သို့ ဆိုလိုသနည်း။- အရှင် ထာဝရ
ဘုရား မိန့်တော်မူသည်ကား၊ ငါအသက် ရှင်
သည်အတိုင်း နောက်တဖန် ဣသရေလ ပြည်၌
ထို စကားပုံကို သုံးရသော အကြောင်း မရှိရ။-
၄ ဝိညာဉ်အပေါင်းတို့ကိုငါပိုင်၏။ အဘ၏ဝိညာဉ်
ကို ငါပိုင်သကဲ့သို့ သား၏ဝိညာဉ်ကိုလည်း ငါ
ပိုင်၏။ ပြစ်မှားသောဝိညာဉ်သည် အသက်သေ
၅ ရမည်။-လူမည်သည်ကား၊ သဘောဖြောင့်၍တ
ရားသောအမှု၊ ထုတ်မှန်သောအမှုကို ပြုလျှင်
ငှင်၊-တောင်ပေါ်မှာမစား၊ ဣသရေလအမျိုးကိုး
ကွယ်သော ရုပ်တုတို့ကို မဖူး မမျှော်၊ သူ့မယား
ကို မပြစ်မှား၊ ဥတုရောက်သောမိန်းမကို မချဉ်း
၇ ကပ်၊- အဘယ်သူကိုမျှ မညှဉ်းဆဲ၊ ကြွေးစား
ပေါင်ထားသောဥစ္စာကိုပြန်၍မပေးဘဲမနေ၊ သူ့
ဥစ္စာကို အနိုင်အထက်မလုမယူ၊ငတ်မွတ်သော
သူကို ကျွေးမွေး၍၊ အဝတ်မရှိသော သူကို အ
၈ ဝတ်နှင့်ဖုံးအုပ်လျှင်၎င်း၊- အတိုးစား၍ ငွေကို
မချေး၊ အမွေ့အမှုကိုထပ်မခံ၊ သူတပါး အမှုကို
၉ တရားသဖြင့်စီရင်ခြင်း၊-ငါ၏စီရင်ထုံးဖွဲ့သည်အ
တိုင်းကျင့်၍ သစ္စာစောင့်ခြင်းကိုပြုလျှင်၊ ထို
သူသည်ဖြောင့်မတ်သောသူဖြစ်၏။ ဧကန်စင်
စစ် အသက်ရှင် ရလိမ့်မည်ဟု၊ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၀ ထိုရာတွင်၊ ထိုသူ၏ သားသည် ထားပြတိုက်
သောသူ၊ လူအသက်ကိုသတ်သောသူ၊ အရင်ဆို
၁၁ ခဲ့ပြီးသော ဒုစရိုက်တနည်းတခုကို ပြုသောသူ- အ
ရင်ဆိုခဲ့ပြီးသော သုစရိုက်ကိုမပြု၊ တောင်ပေါ်
၁၂ မှာစားခြင်း၊ သူ့မယားကိုပြစ်မှားခြင်း။- ဆင်းရဲ
ငတ်မွတ်သောသူကို ညှဉ်းဆဲခြင်း၊ သူ့ဥစ္စာကို
အနိုင်အထက်လုယူခြင်း၊ ပေါင်ထားသောဥစ္စာ
ကိုပြန်၍ မပေးဘဲနေခြင်း၊ ရုပ်တုကို ဖူးမျှော်
၁၃ ခြင်း၊ ရွံရှာဖွယ်သော အမှုကို ပြုခြင်း။- အတိုး
စား၍ ငွေချေးခြင်းကို ပြုသော သူ ဖြစ်လျှင်၊ အ
သက်ရှင်ရမည်လော၊ အသက်မရှင်ရ။ ထိုရွံရှာ
ဖွယ်သောအမှုများကိုပြုသောကြောင့်၊ စင်စစ်အ
သေသတ်ခြင်းကို ခံရမည်။ သေထိုက်သော အ
ပြစ်ရှိ၏။
၁၄ ထိုရာတွင်၊ ထိုသူ၏ သားသည် အဘ ပြုသ
သောဒုစရိုက်တို့ကို မြင်၍ဆင်ခြင်သဖြင့်၊ ထိုသို့
၁၅ သောအမှုတို့ကို မပြု၊-တောင်ပေါ်မှာ မစား၊ ဣ
သရေလအမျိုး ကိုးကွယ်သော ရုပ်တုတို့ကို မဖူး
၁၆ မမျှော်၊ သူ့မယားကို မပြစ်မှား၊- အဘယ်သူကို
မျှမညှဉ်းဆဲ၊ ပေါင်ထားသောဥစ္စာကိုမသိမ်း၊
သူ့ဥစ္စာ ကို အနိုင် အထက် မလု မယူ၊ ငတ်မွတ်
သောသူကို ကျွေးမွေးခြင်း၊ အဝတ်မရှိ သောသူ
၁၇ ကိုအဝတ်နှင့်ဖုံးအုပ်ခြင်း၊-ဆင်းရဲသောသူကို
ချမ်းသာပေးခြင်း။ အတိုးမစားဘဲငွေချေးခြင်းကို
ပြု၍ငါ၏စီရင်ထုံးဖွဲ့ချက်တို့ကိုစောင့်ရှောက်လျှင်၊
ထိုသူသည်အဘ၏အပြစ်ကြောင့် အသေခံရမည်
၁၈ မဟုတ်၊ စင်စစ်အသက်ရှင်ရလိမ့်မည်။- အဘမူ
ကား၊ ညီအစ်ကိုကို အထပ်ထပ် ညှဉ်းဆဲ
လျက်၊ သူ့ဥစ္စာကိုအနိုင်အထက်လုယူလျက်၊ မိမိ
အမျိုးသားချင်းတို့တွင် မကောင်းသော အမှုကို
ပြုသောအပြစ်ကြောင့်၊ အသေသတ်ခြင်းကို ခံရ
၁၉ မည်။- သင်တို့ကသည်ကား၊ အဘယ်သို့နည်း။ သား
သည် အဘ၏အပြစ်ကို မခံရသလောဟု မေးကြ
သော်၊ သားသည် တရားသော အမှု၊ ထုတ်မှန်
သောအမှုကိုပြု၍၊ ငါ၏စီရင်ထုံးဖွဲ့သမျှ အတိုင်း
ကျင့်စောင့်လျှင်၊ စင်စစ်အသက်ရှင်ရလိမ့်မည်။-
၂၀ ပြစ်မှားသော သူသည် အသေခံရမည်။ သား
သည် အဘ၏အပြစ်ကိုမခံရ။ အဘသည် သား၏

အပြစ်ကိုမခံရ။ တရားသောသူသည် တရားစွာ
ပြုခြင်းအကျိုးကိုငင်၊ မတရားသောသူသည်မ
၂၁ တရားစွာပြုခြင်းအပြစ်ကိုငင်ခံရလိမ့်မည်။– သို့
ရာတွင်၊ မတရားသောသူသည် မိမိပြုမိသမျှ
သောဒုစရိုက်တို့ကို ကြည်ရှောင်လျက်၊ ငါ၏ရင်
ထုံးဖွဲ့သမျှတို့ကို စောင့်ရှောက်၍၊ တရားသော
အမှု၊ ဟုတ်မှန်သောအမှုတို့ကိုပြုလျှင်၊သေခြင်း
၂၂ နှင့် လွတ်၍ စင်စစ် အသက် ရှင်ရလိမ့်မည်။– ပြု
မိသမျှသော ဒုစရိုက် အပြစ်တို့ကို သူ့ တ ဖက်၌
မမှတ်ရ။ ပြုမိသော ဖြောင့်မတ်ခြင်းအမှုကြောင့်
၂၃ အသက်ရှင်ရလိမ့်မည်။–မတရားသောသူသည်
မိမိအကျင့်တို့ကိုရှောင်၍ အသက်မရှင်၊ အသေ
ခံခြင်းအမှု၌ ငါသည်အနည်းငယ်သောပျော်မွေ့
၂၄ ခြင်းရှိသလော။– သို့ရာတွင်၊ တရားသောသူ
သည် ဖောက်ပြန်၍၊အဓမ္မအမှုကိုငင်၊ မတရား
သောသူ ပြုသမျှသော စက်ဆုပ် ရွံရှာဖွယ် အမှု
တို့ကိုငင် ပြုလျှင်၊ အသက် ရှင်ရမည် လော၊ အ
ရင် ပြု သ မျှ သော ဖြောင့် မတ် ခြင်း အမှုတို့ ကို
မမှတ်၊ သူသည် လွန်ကျူးသော အမှု၊ ပြစ်မှား
သော အပြစ် ကြောင့် အသေ သတ် ခြင်းကို ခံ ရ
လိမ့်မည်။
၂၅ သို့သော်လည်း သင် တို့က၊ ထာဝရ ဘုရား
၏ရင် ချက် မဖြောင့်ဟု ဆိုကြသည် တကား။ ဣ
သရေလအမျိုး၊ငါ၏ရင် ချက် သည်ဖြောင့် ၍၊
သင်တို့ ၏ရင်ချက်ကောက်သည် မဟုတ်လော။–
၂၆ တရားသောသူသည် တရားသောအမှုကို ပယ်
၍အဓမ္မ အမှုကို ပြုလျှင်၊ ထိုအမှု ကြောင့် သေရ
မည်၊ ပြုမိသောအဓမ္မအမှုကြောင့် အသေသတ်
၂၇ ခြင်းကို ခံရမည်။– ထိုအတူ၊ မတရားသော သူ
သည်မိမိပြုမိသောအဓမ္မအမှုကိုရှောင်၍၊တရား
သောအမှု၊ဟုတ်မှန်သောအမှုကိုပြုလျှင်၊ မိမိအ
၂၈ သက်ကိုကယ်နှုတ်ရလိမ့်မည်။– ပြုမိသမျှသော
အဓမ္မအမှုတို့ကိုဆင်ခြင်၍ရှောင်သောကြောင့်၊
သေခြင်း နှင့် လွတ်၍ စင်စစ် အသက် ရှင်ရလိမ့်
၂၉ မည်။– သို့ သော် လည်း၊ ဣသရေလ အမျိုး က၊
ထာဝရဘုရား၏ရင်ချက်မဖြောင့်ဟုဆိုကြသည်
တကား။ ဣသရေလအမျိုး၊ငါ၏ရင်ချက်သည်
ဖြောင့်၍၊ သင် တို့ ၏ ရင် ချက် ကောက် သည် မ
၃၀ ဟုတ်လော။– သို့ဖြစ်၍၊ ဣသရေလ အမျိုး၊
သင်တို့ အသီးအသီး ကျင့်ကြသည် အတိုင်း အ
ကျိုးအပြစ်ကိုငါစီရင်မည်။ သင်တို့သည်အဓမ္မ
အမှုရှိသမျှတို့ကိုစွန့်ပြစ်၍ပြောင်းလဲကြလော့။
ပြောင်းလဲကြလော့။ဒုစရိုက်အပြစ်ကြောင့်ထိမိ
၃၁ ၍ဆုံးခြင်းသို့မရောက်ကြနှင့်။– သင်တို့သည်ပြု
သမျှသော လွန်ကျူးခြင်းအမှုတို့ကို စွန့်ပြစ်၍
အသစ်သောနှလုံး၊ အသစ်သော စိတ်သဘော
ကိုဖျင်ဆင်ကြလော့။ ဣသရေလအမျိုး၊သင်
တို့သည် အဘယ်ကြောင့်အသေသတ်ခြင်းကိုခံ
၃၂ လိုသနည်း။– အသေခံရသောသူ၏အသေခံခြင်း
အမှု၌ ငါသည် ပျော်မွေ့ခြင်း မရှိ၊ ထိုကြောင့်၊
ပြောင်း လဲ၍ အသက် ရှင်ကြ လော့ ဟု၊ အရှင်
ထာဝရဘုရားမိန့်တော်မူ၏။

၁၉

၁ ထိုမှတပါး၊ ဣသရေလမင်းသားတို့အတွက်
၂ ငိုကြွေးမြည်တမ်းလျက်ပြောရမည်မှာ၊– သင်၏
အမိကား၊အဘယ်သူနည်း။ ခြင်္သေ့မဖြစ်၏။ခြင်
သေ့တို့တွင်အိပ်လျက်နေ၍၊ ခြင်္သေ့ပျိုတို့တွင်မိ
၃ မိသားတို့ကိုကျွေးမွေး၏။– ကျွေးမွေးသောသား
တ ကောင်သည် ခြင်္သေ့ပျို ဖြစ် ၍၊ တော တိ
ရိစ္ဆာန် တို့ကို ဖမ်းဆီးခြင်းငှါ၊ သင်၏လူတို့ကို
၄ လည်းကိုက်စားတတ်၏။– လူမျိုးတို့သည်ကြား
၍ မြေတွင်း၌ ထိုခြင်္သေ့ပျိုကို ဖမ်းပြီးလျှင်၊ သံ
ကြိုးနှင့် ချည်နှောင်၍ အဲဂုတ္တုပြည်သို့ ယူသွား
၅ ကြ၏။– သားဆုံးရှုံးကြောင်းကိုအမိသည်မြင်၍
မိတ်ပျက် သောအခါ၊ သားတကောင် ကိုယူပြန်
၆ ၍၊ခြင်္သေ့ပျိုဖြစ်စေခြင်းငှါပြုသဖြင့်၊– သူသည်
လည်း၊ ခြင်္သေ့တို့ နှင့် ပေါင်းဖော်၍ ခြင်္သေ့ ပျို
ဖြစ်လျက်၊ တော တိရိစ္ဆာန် တို့ကို ဖမ်းဆီးခြင်း
၇ ငှါ၊သင်၏လူတို့ကိုလည်းကိုက်စား၏။– သူတို့မု
ဆိုးမှားကိုသိ၍၊သူတို့မြို့များကိုသုတ်သင်ပယ်
ရှင်းလေ၏။ ဟောက် သော အသံကြောင့် ပြည်
နှင့် ပြည်၌ ရှိသမျှတို့သည် ဆိတ်ညံလျက် ရှိကြ
၈ ၏။– ထိုအခါ လူမျိုးတို့သည်ကျေး ထက် အရပ်
ရပ်တို့က တိုက်လာ၍ပိုက်ကွန်နှင့်ဝိုင်းပြီးလျှင်၊
၉ မြေ တွင်း၌ ဖမ်း ကြ၏။– သံကြိုးနှင့် ချည်နှောင်
လျက်ဗာဗုလုန် ရှင်ဘုရင်ထံသို့ ဆောင်သွား၍၊
သူ ၏ အသံ သည် ဣသရေလ တောင် ပေါ်မှာ
နောက် တဖန် မကြား စေခြင်းငှါ နှောင် အိမ် ၌
ချောင်ထားကြ၏။
၁၀ သင်၏အမိသည် သင်နှင့် တူလျက်၊ ရေနား
မှာစိုက်သော စပျစ်နွယ်ပင်ကဲ့သို့ဖြစ်၏။ ရေများ
သောကြောင့် အခက်အလက်နှင့်ပြည့်စုံ၍၊များ
၁၁ စွာသော အသီးကိုသီးတတ်၏။– မင်းတို့ အသုံး
အဆောင် ရာဇလှံတံသို့ ခိုင်ခံ့သောတံများတို့နှင့်

ဖြည့်စုံ၏၊ ထုထစ်၍ ဖျားဖြားသော အခက်အ
၁၂ ထက်တို့နှင့်အရပ်မြင့်၍ထင်ရှားသော၏။– ထိုရာ
တွင်၊ ဒေါသအမျက်အားဖြင့် နှုတ်၍ မြေပေါ်မှာ
အညီးရှုံးထပြီ၊အရှေ့လေသည် တိုက်၍အသီး
တိုမိန် ခြောက်စေ၏၊ ခိုင်ခံ့သောတံပွါ ထိုသည်
ကျိုး၍ခြောက်သွေ့ခြောက်သဖြင့်၊ မီးလောင်ခြင်းကို ခံ
၁၃ ရကြပြီ။–ထစ်မှုကား၊ ရေမရှိ၊ သွေ့ခြောက်သော
၁၄ ထွင်ပြင် အရပ်၌ စိုက်လျက် ရှိ၏၊– အခက်အ
ထက် တံပွါ တစ်ခု ထဲက မီး ထွက် ၍ အသီး ကို
ကျွမ်းလောင်ပြီ၊ အမိုးရသောရာဇလှံတံဘို့ခိုင်
ခံ့သော တံပွါတစ်ခု တစ်ခုမျှမကျန် ကြွင်း၊၊ ဤစွ
ကားငိုကြွေးမြည်တမ်းခြင်း အကြောင်းဖြစ်၏၊
ငိုကြွေးမြည်တမ်း စရာ အကြောင်း ထည့်ဖြစ်
ထိမ့်မည်၊

၂၀

၁ ထ္တုရာစ်ခုနှစ်ခု၊ ပဉ္စမလ ဆယ်ရက် နေ့
တွင်၊ ဣသရေလအမျိုးအသက်ကြီးသူတို့သည်
ထာဝရဘုရားကို မေးလျှောက်ခြင်းငှါ လာ၍င
၂ ရှေ့မှာ ထိုင်နေကြ၏။– ထာဝရဘုရား၏ နှုတ်က
၃ စကားတော်သည် ငါ့ဆီသို့ရောက်လာ၍၊– အချင်း
လူသား၊အရှင်ထာဝရဘုရား၏အမိန့်တော်ကိုဣ
သရေလအမျိုး အသက်ကြီးသူတို့အား ဆင့်ဆို
ရမည်မှာ၊သင်တို့သည်ငါ့ထံ၌မေးလျှောက်ခြင်း
ငှါလာကြသလော၊ငါအသက်ရှင်သည်အတိုင်း
၄ သင်တို့ မေးလျှောက်ခြင်းကို ငါမခံ၊– အချင်းလူ
သား၊ သင် ထည် သူတို့ကို စစ် ကြော လော့၊ စစ်
ကြောလော့၊သူတို့ဘိုးဘေးပြု အုံးသော စက်ဆုပ်
၅ ရွံ့ရှာဖွယ် အမှုတို့ကို ဖော်ပြ၍၊– အရှင်ထာဝရ
ဘုရား၏ အမိန့်တော်ကိုဆင့်ဆိုရမည်မှာ၊ ဣသ
ရေလအမျိုးကိုငါရွေးကောက်၍၊အဲဂုတ္တုပြည်
၌လူတို့အား ထင်ရှားလျှက်၊ ငါသည် သင်တို့၏
ဘုရားသခင်ထာဝရဘုရားဖြစ်သည်ဟု၊ယာကုပ်
၆ အမျိုးသားတို့အားကျိန်ဆိုသည်ကာလ၊– သူတို့
ကိုအဲဂုတ္တုပြည်မှငါနှုတ်ပြီးလျှင်၊ ပြည်တကာ
တို့၏အထွဋ်ဖြစ်၍၊ နို့နှင့်ပျားရည်စီးသောပြည်၊
သူတို့အဖို့ ငါကြည့်ရှုသောပြည်သို့ဆောင်သွား
၇ ခြင်းငှါ ကျိန်ဆိုသောအခါ၊– သင်တို့ အသီးအ
သီးမျှော်သောစက်ဆုပ် ရွံ့ရှာဖွယ်အရာတို့ကို
ပွန်ပစ် ကြလော့၊ အဲဂုတ္တု ရုပ်တု တို့နှင့် ကိုယ်
ကိုကိုယ် မညစ်ညူးစေကြနှင့်၊ငါသည်သင်တို့၏
ဘုရားသခင်ထာဝရဘုရားဖြစ်၏ဟုငါဆိုသော်
၈ ထည်း၊–သူတို့သည် နားမထောင်၊ ငါ့ကိုဝန်ကန်
ကြ၏၊ အသီးအသီးမျှော်သော စက်ဆုပ် ရွံ့ရှာ
ဖွယ်အရာတို့ကို ပစ်၊ အဲဂုတ္တု ရုပ်တုတို့ကို ပစ်
မပွန့် ဖြစ်ဘဲ နေကြ၏၊ ထိုကြောင့်၊ သူတို့၌ဒေါ
သမိတ် ပြေမည် အကြောင်း၊ အဲဂုတ္တု ပြည်ထဲ
မှာ သူတို့ အပေါ်သို့ ငါ အမျက် အမျှန် ကို သွန်း
၉ လောင်းမည်ဟု ငါအကြံရှိ၏။– ထိုရာတွင်၊သူတို့
နေသောတပါးမှာအမျိုးသားတို့ရှေ့မှာ၊ ငါ၏ နာမ
အသရေကိုမပျက်စေခြင်းငှါ၊ငါသည်နာမတော်
အတွက် စီရင်၍၊ တပါး အမျိုး သားတို့ ရှေ့ မှာ
ထင် ရှား လျှက်၊ သူတို့ကို အဲဂုတ္တု ပြည်မှ နှုတ်
ဆောင်လေ၏၊
၁၀ အဲဂုတ္တုပြည်မှနှုတ်ဆောင်၍တောသို့ရောက်
၁၁ သောအခါ၊– ကျင့်သောသူ၌ အသက်ရှင်စရာအ
ကြောင်း ဖြစ်သော၊ ငါ၏စီရင်ထုံး ဖွဲ့ချက်တို့ကို
၁၂ ငါ ဖော်ပြ ၏။– ထိုမှတပါး၊ ငါ ထာဝရ ဘုရား
သည်သူတို့ကိုသန့်ရှင်းစေသည်ဟု၊ သူတို့သည်
သိမည်အကြောင်း၊ ငါနှင့် သူတို့ စပ်ကြား မှာ၊
လက္ခဏာသက်သေဖြစ်စေခြင်းငှါ၊ ငါ၏ဥပုသ်
၁၃ နေ့တို့ကို ငါခန့်ထား၏။– သို့ရာတွင်၊ ဣသရေလ
အမျိုးသည်တော၌ငါ့ကိုဝန်ကန်ကြ၏၊ကျင့်သော
သူ၌အသက်ရှင်စရာအကြောင်းဖြစ်သော၊ငါ၏
စီရင်ထုံးဖွဲ့ချက်တို့ကိုမစောင့်ရှောက်၊မထီမဲ့မြင်
ပြု၍ငါ၏ဥပုသ်နေ့တို့ကိုအလွန်ရှုတ်ချကြ၏၊ ထို
အခါသူတို့ကိုဖျက်ဆီးခြင်းငှါ၊ တော၌သူတို့ အ
ပေါ်သို့ငါအမျက်အမျှန်ကိုသွန်းလောင်းမည်ဟု
၁၄ အကြံရှိ၏၊–သို့ရာတွင်၊ငါနှုတ်ဆောင်ခြင်းကျေး
ဇူးကိုမြင်သောတပါးအမျိုး သားတို့ရှေ့မှာငါ၏
နာမ အသရေကို မပျက်စေခြင်းငှါ၊ ငါသည်နာမ
၁၅ တော်အတွက်စီရင်လေ၏။– တဖန်၊ ပြည်တကာ
တို့၏အထွဋ်ဖြစ်၍၊ နို့နှင့်ပျားရည်စီးသောပြည်၊
သူတို့အားငါပေးသောပြည်သို့မပို့မဆောင်ခြင်း
၁၆ ငှါ၊တော၌ငါကျိန်ဆို၏။–အကြောင်းမူကား၊သူ
တို့သည်ရုပ်တုများကိုငဲ့ကွက်သောစိတ်ကြောင့်၊ ငါ၏
စီရင်ထုံးဖွဲ့ချက်တို့ကိုမစောင့်ရှောက်၊ မထီမဲ့မြင်
၁၇ ပြု၍ငါ၏ဥပုသ်နေ့တို့ကိုရှုတ်ချကြ၏။– သို့သော်
လည်း၊ ငါသည် သူတို့ကိုနှစ်မြောသောစိတ်ကြောင့်
မဖျက်ဆီး၊တော၌ဆုံးရှုံးစေခြင်းငှါမပြု၊
၁၈ သားမြေးတို့အားလည်း၊သင်တို့၏ဘိုးဘေးစီ
ရင် ထုံး ဖွဲ့ချက်တို့ကို မစောင့် ရှောက်ကြနှင့်၊ သူ
တို့၏ရုပ်တု များ အားဖြင့်ကိုယ်ကိုမညစ်ညူးစေ
၁၉ ကြနှင့်၊– ငါသည်သင်တို့၏ဘုရားသခင်ထာဝရ
ဘုရားဖြစ်၏၊ ငါ၏စီရင် ထုံး ဖွဲ့ချက်တို့ကို စောင့်



 

၂၀ ရှောက်၍ကျင့်ကြကြလော့။- ငါ၏ဥပုသ်နေ့တို့
ကိုလည်းသန့်ရှင်းစေကြလော့။ ငါသည်သင်တို့
၏ဘုရားသခင် ထာဝရဘုရားဖြစ်သည်ဟု၊ သင်
တို့သည်သိမည်အကြောင်း၊ ထိုဥပုသ်နေ့တို့ကိုငါ
နှင့် သင်တို့စပ်ကြားမှာ သက်သေဖြစ်
၂၁ စေကြလော့ဟုငါဆို၏။- သို့သော်လည်း၊ သူတို့၏
သားခြေးတို့သည်ငါကိုပုန်ကန်ကြ၏။ ကျင့်သော
သူ၌ အသက် ရှင် စရာ အကြောင်း ဖြစ်သော၊
ငါ၏ စီရင် ထုံးဖွဲ့ ချက် တို့ကို မစောင့်ရှောက်၊ မ
ကျင့်ကြံဘဲနေ၍၊ ငါ၏ဥပုသ်နေ့တို့ကို ရှုတ်ချကြ
၏။ ထိုအခါ ငါသည်သူတို့၌ဒေါသ စိတ်ကိုပြေစေ
ခြင်းငှါ၊ တောထဲမှာငါ၏အမျက် အရှိန်ကိုသူတို့
၂၂ အပေါ်သို့ သွန်းလောင်းမည်ဟုအကြံရှိ၏။- သို့
ရာတွင်၊ ငါနှုတ်ဆောင်ခြင်း ကျေးဇူး ကိုသိမြင်
သောတပါးအမျိုးသားတို့ရှေ့မှာ ငါ၏နာမအသ
ရေကို မပျက် စေခြင်းငှါ၊ ငါ သည် နာမတော်အ
၂၃ တွက်ပြု၍ သည်းခံ လျက်နေ၏။- တဖန်ငါသည်
သူတို့ကို အတိုင်း တိုင်း အပြည်ပြည် အရပ်ရပ်
၂၄ တို့သို့ ကွဲပြားစေခြင်းငှါ တော၌ကျိန်ဆို၏။- အ
ကြောင်းမူကား၊ သူတို့သည်ဘိုးဘေးတို့ကိုးကွယ်
သောရုပ်တု များကို ငဲ့ကွက် သောကြောင့်၊ ငါ၏
စီရင်ထုံးဖွဲ့ချက်တို့ကိုမစောင့်ရှောက်၊ မထီမဲ့မြင်
၂၅ ပြု၍ ငါ၏ ဥပုသ် နေ့ တို့ကို ရှုတ် ချ ကြ ၏။- ထို
ကြောင့်၊ မကောင်း သော စီရင်ချက်၊ အသက်မ
၂၆ ရှင်ရသောထုံးဖွဲ့ချက်တို့ကို ငါပေး၏။-ငါသည်
ထာဝရဘုရား ဖြစ်သည်ကို သူတို့သည်သိမည်
အကြောင်း၊ သူတို့ ကို ဖျက်ဆီး ခြင်း ငှါ၊ သူတို့
သည် သားဦး အပေါင်း တို့ကို မီးဖြင့်ပူဇော်ရာ
တွင်၊ သူတို့ပူဇော်သကာများအားဖြင့် ငါညစ်
ညူးစေ၏။
၂၇ ထို့ဖြစ်၍၊ အချင်းလူသား၊ အရှင်ထာဝရဘုရား
၏အမိန့်တော်ကိုဣသရေလအမျိုးသားတို့အား
ဆင့်ဆိုရမည်မှာ၊ သင်တို့၏ဘိုးဘေးတို့သည်ငါကို
အထပ်ထပ်ပြစ်မှား၍ ရှုတ်ချကြသည်တကား။-
၂၈ သူတို့အားပေးခြင်းငှါ ငါကျိန်ဆို သောပြည်သို့
ဆောင်သွင်း သောအခါ၊ သူတို့သည်မြင့် သော
တောင်၊ ထူထပ်သောသစ်ပင်ရှိသမျှတို့ကိုကြည့်
ရှု၍၊ ထိုအရပ်တို့၌ ယဇ်ပူဇော်ခြင်း၊ ငါ့အမျက်
ကိုနိုး ဆော်သော အလှူဒါနကို တင်ခြင်း၊ နံ့သာ
ပေါင်းကိုမီးရှို့ခြင်း၊ အရည် ပူဇော်သကာသွန်း
၂၉ လောင်းခြင်းတို့ကို ပြုကြ၏။- ငါကလည်း၊ သင်
တို့သွားတတ်သောမြင့်ရာအရပ်ကား၊ အဘယ်
သို့နည်းဟုမေးသော်လည်း၊ ယနေ့တိုင်အောင်
မြင့်ရာအရပ်ဟု ဆိုလို ဗာမာ အမည်ဖြင့်
သမုတ်ကြ၏။
သို့ဖြစ်၍၊ သင်သည်အရှင်ထာဝရဘုရား၏အ
မိန့်တော်ကို ဣသရေလအမျိုးသား တို့အားဆင့်
ဆိုရမည်မှာ၊ ဖိုဣသရေလအမျိုး၊ သင်တို့သည်
ဘိုးဘေးတို့ ထုံးစံအတိုင်း ညစ်ညူးလျက်၊ သူတို့
ပြုသောစက်ဆုပ်ရွံရှာဖွယ်အမှုတို့ကို ပြု၍မှား
၃၁ ယွင်းလျက်၊- ပူဇော်သကာပြုသဖြင့်၎င်း၊ ကိုယ်
သားတို့ကို မီးဖြင့်ပူဇော်သဖြင့်၎င်း၊ ယနေ့တိုင်
အောင် ရုပ်တုအပေါင်း တို့နှင့် ညစ်ညူး လျက်ရှိ
ကြစည်တွင်၊ ငါသည်သင်တို့မေး လျှောက်ခြင်း
ကိုခံရမည်လော။ ငါအသက်ရှင် သည် အတိုင်း
၃၂ သင်တို့မေးလျှောက်ခြင်းကိုငါမခံ။- ငါတို့သည်
တပါး အမျိုးသား ကဲ့သို့၎င်း၊ သစ်သားဘုရား၊
ကျောက် ဘုရား ကို ဝတ် ပြု သော ပြည်သူပြည်
သားများကဲ့သို့၎င်း ဖြစ်မည်ဟု၊ သင်တို့ ကြံစည်
၃၃ သည် အတိုင်း အကြံ မမြောက်ရ။- အရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ငါအသက်ရှင်
သည် အတိုင်း အကယ် စင်စစ် အား ကြီး သော
လက်၊ ဆန့်သောလက်ရုံး၊ သွန်းလောင်းသော
ဒေါသ အ ရှိန် အား ဖြင့် သင် တို့ ကို ငါ အုပ် စိုး
၃၄ မည်။- သင်တို့ ကွဲပြားလျက် နေ သော အတိုင်း
တိုင်း အပြည်ပြည်တို့မှ၊ သင် တို့ ကို အား ကြီး
သောလက်၊ ဆန့်သော လက်ရုံး၊ သွန်းလောင်း
သော ဒေါသ အရှိန် နှင့် ငါဆောင် ခဲ့၍ စုဝေး စေ
၃၅ မည်။- လူ အ မျိုး မျိုး နှင့် ဆိုင် သော တော သို့
ဆောင် ခဲ့၍၊ ကိုယ် တိုင် ကိုယ်ကြပ် တရား တွေ့
၃၆ မည်။- အဲဂုတ္တု ပြည်နှင့်ဆိုင်သောတော၌ သင်
တို့၏ဘိုးဘေးများနှင့်တရားတွေ့သကဲ့သို့သင်တို့
၃၇ နှင့်တရားတွေ့မည်။- နှင်တံအောက်မှာရှောက်
သွားစေ၍၊ ပဋိညာဉ် အချည် အနှောင်ကိုခံစေ
၃၈ မည်။- ငါကို ပုန်ကန်၍ ပြစ်မှား သော သူ တို့ကို
သင် တို့ အ ထဲ က နှုတ် ပယ် မည်။ သူ တို့သည်
တည်း နေသောပြည်မှထွက်သွားရသော်လည်း၊
ဣသရေလ ပြည်သို့မဝင်ရကြ။ ငါသည်ထာဝရ
ဘုရားဖြစ်ကြောင်းကိုသင်တို့သိရကြလိမ့်မည်။
၃၉ ဖိုဣသရေလအမျိုးသားတို့၊ အရှင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ သွားကြလော့၊ အ
သီးအသီးမိမိတို့ရုပ်တုများကိုဝတ်ပြုကြလော့။
သို့ရာတွင်၊ အကယ်စင်စစ် နောက်တဖန်ငါစကား
ကိုနားမထောင်သော်လည်း၊ ငါ၏သန့်ရှင်းသော

နာမတော်ကို သင်တို့ ပူဇော်သကာများ၊ နှင့်ရုပ်
တုများအားဖြင့်မရှုတ်ချဘဲ နေရကြလိမ့်မည်။-
၄၀ အကြောင်းမူကား ငါ၏သန့်ရှင်းသောတောင်၊
အမြင့် ဆုံး သော ဣသရေလ တောင် ပေါ်မှာ ဣ
သရေလအမျိုးသား၊ပြည်သူပြည်သားအပေါင်း
တို့သည် ငါ့အားဝတ်ပြုရကြလိမ့်မည်။ ငါသည်
ထည်၊ လက်ခံ၍၊ ထိုအရပ်၌ သင်တို့ ပြုအပ်သော ပူ
ဇော်သကာများ၊ အဦးသီးသောအသီးထွက်ရှေး
၍ဆက် ရသော အသီးအနှံများ၊နှင့် တကွ၊ သင်
တို့သန့်ရှင်း သောအရာ ရှိသမျှတို့ကို ငါတောင်း
၄၁ မည်။- သင်တို့သည် ကွဲပြားလျက် နေသော အ
တိုင်းတိုင်း၊ အပြည်ပြည်တို့မှ ငါ ဆောင် ခဲ့၍ စု
ဝေး သောအခါ၊ သင်တို့၌ ပါသော နံ့သာပေါင်း
အမွှေး အကြိုင် နှင့် တ ကွ၊ သင် တို့ကို ငါသည်
လက်ခံ၍၊ သင်တို့အားဖြင့်တပါးအမျိုးသားတို့
ရှေ့မှာ ငါ၏ အသရေထင်ရှားခြင်းရှိလိမ့်မည်။-
၄၂ သင်တို့၏ဘိုးဘေးတို့အား ပေးခြင်းငှါ၊ ကျိန်ဆို
သောဣသရေလပြည်သို့သင်တို့ကို ဆောင်သွင်း
သောအခါ၊ငါသည်ထာဝရဘုရား ဖြစ်ကြောင်း
၄၃ ကို သင်တို့သိရကြလိမ့်မည်။- သင်တို့ ညစ်ညူး
သောကျင့်ကြံ ပြုမူရာအမှု ရှိသမျှတို့ကို ထိုပြည်
၌ အောင်း မေ့ ၍၊ ပြု မိ သ မျှ သော ဒုစရိုက် တို့
၄၄ ကြောင့်ကိုယ်ကိုကိုယ် ရွံရှာကြလိမ့်မည်။-ဣ
သရေလ အမျိုး သားတို့၊ သင်တို့၏ ဒုစရိုက်များ၊
သင်တို့ ဆိုးညစ်သော အကျင့်များနှင့်အညီ၊ ငါ
သည်သင်တို့ကိုမစီရင်၊ကိုယ်နာမကိုထောက်၍
စီရင် သော် အခါ၊ ထာဝရ ဘု ရား ဖြစ် ကြောင်း
ကို သင်တို့ သိရကြလိမ့်မည်ဟု၊ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။
၄၅ တဖန်ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
၄၆ ငါ့ဆီသို့ရောက်လာ၍၊- အချင်းလူသား၊ တောင်
ဘက်သို့ မျက် နှာပြုလျက်၊ တောင် မျက်နှာ တ
ဖက်၌မြွက်ဆို၍၊တောင်ပြည်၌ ရှိသောတောတ
၄၇ ဖက်၌ ဟောပြောလော့။- အရှင်ထာဝရ ဘုရား
၏ အမိန့်တော် ကို တောင် ပြည် ၌ ရှိသော တော
အား ဆင့်ဆိုရမည်မှာ၊ ငါသည် သင်၌ မီးကိုညှိ
မည်။ သင်၌စိမ်းလန်းသောအပင်၊ သွေ့ခြောက်
သော အပင်ရှိသမျှ လောင်လိမ့် မည်၊ တောက်
သောမီးလျှံသည်မငြိမ်းရ၊ တောင်ဘက်မှသည်
မြောက် ဘက် သို့ တိုင် အောင် မြေ့တ ပြင် လုံး
၄၈ လောင်လိမ့်မည်။- ထိုမီးကိုငါထာဝရဘုရားညှိ
ကြောင်းကို၊ သတ္တဝါအပေါင်းတို့သည် သိရကြ
လိမ့်မည်၊ ထိုမီးသည် မငြိမ်းရဟု မိန့် တော်မူ
၄၉ ၏။-ငါကလည်း၊ အိုအရှင်ထာဝရဘုရား၊ သူတို့
က၊ ဤသူသည် ပုံပမာကို သာ ဆောင်၍ ဟော
ပြောတတ် သည်မဟုတ် လောဟု၊ အကျွန်ုပ် ကို
ရည်မှတ်၍ ဆိုတတ် ကြ ပါ သည် ဟု လျှောက်
လေ၏။

၂၁

၁ တဖန် ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
၂ သည် ငါ့ဆီသို့ ရောက်လာ၍၊- အချင်း လူသား၊
ယေရုရှလင် မြို့ ကို မျက်နှာ ပြုလျက်၊ သန့်ရှင်း
သောအရပ်ရှိရာဖို့ တဖက်၌မြွက်ဆို၍ ဣသရေ
၃ လပြည်တဖက်၌ ဟောပြောလော့။- အရှင်ထာ
ဝရ ဘုရား ၏ အမိန့် တော် ကို ဣသရေလ ပြည်
အား ဆင့်ဆိုရမည်မှာ၊ငါသည်သင့်ကိုရန်ဘက်
ပြုလျက်၊ ငါ့ဓားကို ဓားအိမ်မှထုတ်၍၊ သင်၌
တရား သော သူ၊ မတရား သော သူ တို့ကို ပယ်
၄ ဖြတ်မည်။- ထိုသို့သင်၌တရားသောသူ၊မတရား
သောသူတို့ကိုပယ်ဖြတ်စရာအကြောင်းရှိသော
ကြောင့်၊ ငါ့ ဓား သည် တောင် ဘက် မှ သည်
မြောက် ဘက် သို့ တိုင်အောင်၊ ခပ်သိမ်း သော
သတ္တဝါတို့ကို ရန်ဘက်ပြု၍ ဓားအိမ်မှထွက်ရ
၅ လိမ့်မည်၊- ငါထာဝရဘုရားသည်ဓားကို သူ
အိမ်မှ ထုတ်ကြောင်းကို၊ သတ္တဝါ အပေါင်းတို့
သိရ ကြလိမ့်မည်၊ ထိုဓားသည် နောက်တဖန်
၆ အိမ် သို့ မပြန်ရ။- သို့ဖြစ်၍၊ အချင်း လူ သား၊
ညည်းတွားသံကို ပြုလော့၊ ခါးကျိုးလျက်၊ နှ
လုံးကြေကွဲလျက်၊ သူတို့ရှေ့မှာညည်းတွားသံကို
၇ ပြုလော့။-သူတို့ကလည်း၊ အဘယ်ကြောင့်ညည်း
တွားသနည်းဟု သင့်ကိုမေးသောအခါ၊ သင်က၊
ငါသည် သိတင်းစကားကြောင့် ညည်းတွား၏
အမှန်ပြီ၊ လူအပေါင်းတို့သည် ကြောက်အား
ကြီး၍လက်အားလျော့ကြလိမ့်မည်၊စိတ်ပျက်၍
ရှုံးသည်လည်းအရည်ဖြစ်လိမ့်မည်၊အမှုလာ၍
ရောက်မည့်အကြောင်းကို၊အရှင်ထာဝရဘုရား
ဗျာဒိတ် ပေးတော် မူကြောင်းကို ပြန်ပြောလော့
ဟုမိန့်တော်မူ၏။
၈ တဖန် ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
၉ သည် ငါ့ဆီသို့ ရောက်လာ၍၊- အချင်း လူသား၊
ပရောဖက် ပြု၍ အရှင် ထာဝရ ဘုရား ၏ အမိန့်
တော်ကို ဆင့်ဆို ရမည်မှာ၊ ဓားတော်ကိုထက်
စွာသွေးလေပြီ၊ ပြောင်လက် စွာတွတ်လေပြီ။-
၁၀ ထက်၍ အလူး ထဖြင့် လုပ်ကြံ စေခြင်းငှါ သွေး၊

ဆုံးပြီ။ ပြောင်၍ အရောင်တောက် စေခြင်းငှါ
သည်း ပွတ်ထေပြီ။ သောသူ၏ ရာဇလှံတံ ကြောင့်
ရွှင်လန်းခြင်းကိုပြုရမည်လော။ ထိုထားသည်
၁၁ သစ်သားမှီသမျှကို မထီမဲ့မြင်ပြုတတ်၏။- သုံး
စရာဖို့ ပွတ်စေခြင်းငှါ အပ်ထားပြီ။ လုပ်ကြံ
သောသူ၌အပ်ခြင်းငှါ ထက်စွာသည်းထွေးထေ
၁၂ ပြီ။ပြောင်ထက်စွာပွတ်ထေပြီ။-အချင်းလူသား၊
ငိုကြွေးအော်ဟစ်လော့။ အကြောင်းမူကား၊ ငါ
၏လူတို့၌ရောက်လိမ့်မည်။ ဣသရေလမင်းသား
အပေါင်းတို့၌ လည်း ရောက်လိမ့်မည်။ သူတို့
နှင့်တကွ ငါ၏ လူတို့ကို ထားနှင့် အပ်ထေ၏။ ထို
၁၃ ကြောင့်၊သင်၏ပေါင်ကိုရိုက်လော့။- စုံစမ်းခြင်း
အမှုဖြစ်၏။ ထားတော်သည်လှံတံကို မရှုမသေ
ပြုလျှင်အဘယ်သို့နည်း။ လှံတံဆုံးလိမ့်မည်ဟု
၁၄ အရှင်ထာဝရဘုရားမိန့်တော်မူ၏။-သို့ဖြစ်၍၊အ
ချင်းလူသား၊ပရောဖက်ပြု၍လက်ခုပ်တီးလော့။
ထားတော်သည်နှစ်ခေါက်၊သုံးခေါက်ရောက်ရ
၏။ သူရဲထား၊ အားကြီးသောသူရဲထားဖြစ်၏။
၁၅ သူတို့ကို ဝန်းရံသော ထား ဖြစ်၏။- သူတို့ စိတ်
ပျက်၍အထူးသဖြင့်ဆုံးရှုံးစေခြင်းငှါ၊ထားဘေး
ကို မြို့တံခါး ရှိသမျှ တို့၌ ငါ ရောက်စေပြီ။ထား
ပြောင်လျှက်ရှိ၏။လုပ်ကြံစရာဘို့ပွတ်ထားလျက်
၁၆ ရှိ၏။- စုဝေးလော့။ ထက်ျာဘက်သို့ခုတ်လော့။
လှည့်ဦးလော့။ လက်ဝဲဘက် အစရှိသော၊ သင်၏
အလွှာ မျက်နှာ ပြုသမျှ ဘက် သို့ ခုတ် လော့။-
၁၇ ငါသည်လည်းလက်ခုပ်တီး၍၊ငေါ်ါသအမျက်
ကို ပြီမ်း စေမည်။ ထိုသို့ ငါ ထာဝရဘုရား မိန့်
တော်မူပြီ။
၁၈ 　တဖန် ထာဝရ ဘုရား၏ နှုတ်ကပတ်တော်
၁၉ သည် ငါ့ဆီသို့ ရောက် လာ၍၊- အချင်း လူသား၊
ဗာဗုလုန် ရှင် ဘုရင်၏ ထား သွားရာ လမ်း နှစ်
လမ်း ကို မှတ် သားလော့။ လမ်း နှစ် လမ်း တို့
သည် ပြည် တ ပြည် ထဲ က ထွက် ရ မည်။ မြို့သို့
သွားသော လမ်းခွ၌ အရပ်တခုကို ရွေးလော့။-
၂၀ အမ္မုန်ပြည်၌ ရဗ္ဗတ်မြို့သို့၎င်း၊ ယုဒပြည်၌ ခိုင်ခံ့
သောယေရုရှလင်မြို့သို့၎င်း၊ထားရောက်ရာလမ်း
၂၁ ကိုမှတ်သားလော့။- ဗာဗုလုန်ရှင် ဘုရင်သည်
မေးစင်တွက်ခြင်းငှါလမ်း နှစ်လမ်းဆုံမိရာလမ်း
ခွ၌ရပ်၏။ မြှားတို့ကိုရောနှော၏။ တေရပ်ရုပ်တု
၂၂ တို့ကိုမေးမြန်း၏။အသည်းကိုကြည့်ရှု၏။-ဝဲဘက်
ခွထိုင်၌တိုက်ထိုက်ကိုဆွဲထားစေခြင်းငှါ၎င်း၊ လုပ်ကြံ
ခြင်းအမှုကိုဖွင့်ထားစေခြင်းငှါ၎င်း၊ ကြွေးကြော်
အော်ဟစ်စေခြင်းငှါ၎င်း၊ မြို့တံခါးတဖက်တချက်
ဝတ်ခွထိုင်၌ တိုက်ထိုက်ကို ဆွဲ ထား စေခြင်းငှါ ၎င်း၊
မြေမှိုးကိုမှိုစေခြင်းငှါ၎င်း၊ရဲတိုက်ကို ဆောက်စေ
ခြင်းငှါ၎င်း၊ လက်ျာဘက်၌ ယေရုရှလင်မြို့အမှီ
၂၃ မေးစင်တွက်၍နေရာကျ၏။-သို့ရာတွင်၊ရှင်ဘုရင်
ထံ၌ သစ္စာခံ သော သူတို့သည် ထိုမေးစင် တွက်
ခြင်းကို အစည်းနှီးသောမေးစင်တွက်ခြင်းကဲ့သို့
မှတ်ကြလိမ့်မည်။ ရှင်ဘုရင် မူကား၊ သူ တို့ ကို
စမ်းမိလိုသောငှါ၊ သူတို့ပြစ်မှားသောအပြစ်ကို
၂၄ အောင်းမေ့လိမ့်မည်။- သို့ဖြစ်၍၊ အရှင်ထာဝရ
ဘုရားမိန့် တော်မူသည်ကား၊ သင်တို့ပြုလေသ
မျှတို့၌ အပြစ် ထင်ရှား၊ သည်တိုင် အောင်၊ သင်
တို့ သည် မိမိ တို့ ဒုစရိုက် အပြစ် ကို သူ တပါး
အောင်းမေ့စေ၍၊ မိမိတို့လွန်ကျူးခြင်း အမှုများ
ကိုဖော်ပြလျက်၊ မိမိတို့ကိုသူတပါး အောင်းမေ့
စေသောကြောင့်၊ထိုရှင်ဘုရင်လက်သို့ ရောက်ရ
၂၅ ကြလိမ့်မည်။- အချင်းဆိုးယုတ်သော အစ္စ ဣ
သရေလ မင်းသား၊ အဓမ္မအမှုကြောင့် ဆုံးရှုံးရ
သော ကာလ ရောက် သော အခါ၊ သင်၏ အမှိန်
၂၆ ကာလသည် ရောက်လိမ့်မည်။- ဦးရစ်ထော်ကို
ပယ်၍ရာဇသရဖူကိုချွတ်လော့။ နောက်တဖန်မ
ရှိရ။နိမ့်သောသူကိုချီးမြှောက်ရမည်။မြင့်သော
သူကိုနှိမ့်ချရမည်။- နိုင်ငံကိုဆုံးစေခြင်းငှါ၎င်း၊
အမျိုးပိုင်သောသူမရောက်မှီ ထိုင်အောင်ဒုစ် ငါ
မှောက်လှန်မည်။ မှောက်လှန်မည်။ မှောက်လှန်
မည်။ အမျိုးပိုင်သောသူ၌ငါအပ်မည်ဟု၊အရှင်
ထာဝရဘုရားမိန့်တော်မူ၏။
၂၈ 　အချင်းလူသား၊ အရှင် ထာဝရဘုရားသည်
၂၉ အမ္မုန်အမျိုး သားတို့ကို၎င်း၊ သူတို့ကဲ့ရဲ့ခြင်းကို
၎င်းရည်မှတ်၍ မိန့်တော်မူသော စကားကိုပရော
ဖက်ပြု၍ ဆင့်ဆိုရမည်မှာ၊ အဓမ္မအမှုကြောင့်
ဆုံးရှုံးရသော ကာလရောက်၍ အပြစ်ဒဏ်ခံရ
သောအခါ၊အသေသတ်ခြင်းကိုခံရသောအဓမ္မ
လူတို့၏လည်ပင်းပေါ်မှာ၊ သင့်ကို နေရာကျစေ
ခြင်းငှါ၊ သင့် အမှီ အချည်းနှီး သော အရာ ကို
ကြည့် မြင်၍၊ မုသာ စကားကို ဟောပြောစဉ်
တွင်၊ ထားတော်သည် လုပ်ကြံမှီရာထုတ်လျက်
ရှိ၏။ ဖျက်ဆီးမှီရာ အရောင်တောက်သည် တိုင်
၃၀ အောင် ပြောင်စွာ ပွတ်ထေပြီ။- သင့် ထား ကို
အိမ်သို့ပြန်စေလော့။ သင့်ကို ငါဖန်ဆင်းသော
အရပ်၊ မွေးဖွားရာ အရပ်၌ သင့်ကိုငါစီရင်မည်။-
၃၁ သင့် အပေါ်သို့ ငါ့အမျက် ကို ငါ သွန်း သော်၏

မည်။ ဒေါသမီးဖြင့် သင့်ကိုမှုတ်မည်။ ကြမ်း
တမ်းသောသတောမှိ၍ ဖျက်ဆီးတတ်သောလူ
၃၂ တို့ထက်သို့အပ်မည်။-သင်သည်မီးရှူးတိုထင်း
ဖြစ်ရလိမ့်မည်။သင့်အသွေးသည်ပြည်အလယ်
၌ရှိရလိမ့်မည်။ နောက်တဖန် အဘယ်သူမျှ မ
အောက်မေ့ရဟု၊ငါထာဝရဘုရားမိန့်တော်မူ၏။

## ၂၂

၁ တဖန် ထာဝရဘုရား၏ နှုတ်ကပတ် တော်
၂ သည်ငါ့ဆီသို့ရောက်လာ၍၊- အချင်းလူသား၊လူ
အသက်ကို သတ်တတ်သောမြို့ကို သင်သည် စစ်
ကြောလော့၊ စစ်ကြောလော့။ သူ၌ပြုသမျှသော
၃ စက်ဆုပ်ရွံရှာဖွယ် အမှုတို့ကိုပြလော့။- အရှင်
ထာဝရဘုရား၏ အမိန့်တော်ကို ဆင့်ဆို ရမည်
မှာ၊မိမိအချိန် ရောက် စေခြင်းငှါ၊ မိမိအထဲ၌
လူအသက်ကိုသတ်၍၊ မိမိကိုညစ်ညူး စေအံ့ငှါမိမိ
၄ တဖက်၌ ရုပ်တုတို့ကို လုပ်တတ်သောမြို့၊- သင်
သည် လူအသက်ကိုသတ်သောအားဖြင့် အပြစ်
ရောက်၏။ လုပ်သော ရုပ်တု အားဖြင့် ညစ်ညူး
ခြင်းရှိ၏။ သင်၏နေ့ရက် ကာလ အချိန်ကို ကိုယ်
တိုင်ရောက်စေပြီ၊ထိုကြောင့်၊ငါသည်သင့်ကိုအ
တိုင်းတိုင်း အပြည်ပြည် တို့ တွင် ကဲ့ရဲ့ရာ၊ ဖျက်
၅ ချော်ရာဖြစ်စေမည်။- ဖိုအသရေဖျက်၍ နှောင့်
ရှက်ခြင်းကိုခံ ရသောသင်ကို၊ အဝေးအနီး၌နေ
၆ သောသူတို့သည် ဖျက်ချော်ကြလိမ့်မည်။- ဣသ
ရေလမင်းသားတို့သည်အသီးအသီးအစွမ်းတန်
ခိုးရှိသည်အတိုင်း၊ သင့်အလယ်၌ လူအသက်
၇ ကိုသတ်တတ်ကြ၏။-သင့်အလယ်၌မိဘတို့ကိုမ
ထီမဲ့မြင်ပြုကြ၏။ တပါးအမျိုးသားတို့ကို အနိုင်
အထက်ပြုကြ၏။ မိဘ မရှိသော သူနှင့် မုဆိုးမ
၈ တို့ကိုညှဉ်းဆဲကြ၏။- သင်သည်ငါ၏သန့်ရှင်း
သောအရာတို့ကို မထီမဲ့မြင်ပြုပြီ။ ငါ၏ဥပုသ်နေ့
၉ တို့ကိုရှုတ်ချပြီ။- သင့်အလယ်၌လူအသက် ကို
သတ်လို၍ကုန်းတိုက်သောသူ၊ တောင်ပေါ်မှာစား
၁၀ သောသူ၊အဓမ္မအမှုကိုပြုသောသူရှိကြ၏။- သင့်
အလယ်၌အဖ၏မယားကို ပြစ်မှားကြ၏။ ဥတု
၁၁ ရောက်သော မိန်းမနှင့် မှားယွင်း ကြ၏။- သင့်အ
လယ်၌အချို့တို့သည် အိမ်နီးချင်းမယားကိုပြစ်
မှားကြ၏။ အချို့တို့သည် မိမိချွေးမနှင့် ဆိုးညစ်
သောအဓမ္မအမှုကိုပြုကြ၏။ အချို့တို့သည်မိမိ
၁၂ နှမ၊ မိမိအဖ၏ သမီးကို ရှုတ် ချကြ၏။- သင့်အ
လယ်၌လည်း လူအသက်သတ်ခကိုခံကြ၏။ အ
တိုးစား၍ငွေကိုချေးကြ၏။အိမ်နီးချင်း၏ဥစ္စာကို
၁၃ လုယူကြ၏။ ငါ့ကိုလည်းမေ့လျော့ကြ၏။- ထို့ကြောင့်
၍၊သင်ဆည်းဖူးသောဥစ္စာ၊သင့်အလယ်၌သွန်း
၁၄ သောအသွေးကြောင့် ငါ လက်ခုပ်တီး၏။- သင့်
ကိုငါစီရင်သောအခါ၊သင်၏နှလုံးသည်ခိုင်ခံ့
နိုင်သလော။သင်၏လက်သည်လည်းအားကြီး
နိုင်သလော။ငါထာဝရဘုရားသည်အမိန့်တော်
၁၅ ရှိသည်အတိုင်းပြုမည်။- သင့်ကိုလည်းအတိုင်း
တိုင်းအပြည်ပြည်တို့တွင်၊ အရပ်ရပ်သို့ကွဲပြား
စေမည်။ သင်၏ အညစ် အကြေးကို လည်း ပယ်
၁၆ ရှင်းမည်။- လူအမျိုးမျိုးတို့ ရှေ့မှာ၊ သင် သည်
ကိုယ်တိုင် အသရေ ရှုတ်ချခြင်းကို ခံ ရ၍၊ ငါ
သည် ထာဝရ ဘုရား ဖြစ်ကြောင်းကို သိရလိမ့်
မည်ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၇ တဖန် ထာဝရဘုရား၏ နှုတ် က ပတ် တော်
၁၈ သည်ငါ့ဆီသို့ရောက်လာ၍၊- အချင်းလူသား၊ဣ
သရေလအမျိုးသည် ငါ့ရှေ့မှာချေး ဖြစ်လေပြီ။ထို
သူအပေါင်းတို့သည်မိုက်ထဲ၌ထည့်သောကြေး
နီ၊ကြေးဖြူ၊သံ၊ခဲကဲ့သို့ ငွေနှင့်ကွာသောချေးဖြစ်
၁၉ ကြ၏။-ထိုကြောင့်၊အရှင်ထာဝရဘုရားမိန့်တော်
မူသည် ကား၊ သင်တို့ အပေါင်း သည် ချေး ဖြစ်
သော ကြောင့်၊ ယေရုရှလင် မြို့ထဲ၌ ငါစုဝေးစေ
၂၀ မည်။- ငွေ၊ကြေးနီ၊ ကြေးဖြူ၊သံ၊ ခဲတို့ကိုမီးမှုတ်
၍အရည်ကြိုခြင်းငှါ မိုက်ထဲ၌ စုထားသကဲ့သို့၊
ထိုအတူ ငါသည် ပြင်းစွာအမျက် ထွက် လျက်၊
သင်တို့ကို ထိုမြို့ထဲ၌စုထား၍ အရည်ကြိုမည်။-
၂၁ အကယ်စင်စစ် စုထားပြီးမှ ငါ့အမျက်မီးကို မှုတ်
၍၊သင်တို့သည်မြို့ထဲမှာ အရည်ကြိုခြင်း ကိုခံရ
၂၂ ကြလိမ့်မည်။-ငွေကိုမိုက်ထဲ၌ အရည်ကြိုသကဲ့
သို့၊သင်တို့သည်မြို့ထဲမှာ အရည်ကြိုခြင်းကိုခံရ
သဖြင့်၊ ငါ ထာဝရဘုရားသည် သင်တို့အပေါ်
သို့၊ငါ၏ဒေါသ အမျက်ကိုသွန်းလောင်းသည်ကို
သိရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၂၃ တဖန် အရှင် ထာဝရ ဘုရား၏ နှုတ်ကပတ်
၂၄ တော်သည် ငါ့ဆီသို့ ရောက်လာ၍၊- အချင်း လူ
သား၊သင်ဆင့်ဆိုရမည်မှာ၊ အမျက်ထွက်သော
နေ့၌ မိုဃ်းမရွာ၊ သင်သည် မိုဃ်း ရေကို မခံရ
၂၅ သောပြည်ဖြစ်၏။-ထိုပြည်အလယ်၌ ပရောဖက်
တို့သည်သင်းဖွဲ့ခြင်းကိုပြုကြပြီ။ ဟောက်၍အ
ကောင်ကို ကိုက်ဖြတ် သော ခြင်္သေ့ကဲ့သို့ လူတို့
ကိုကိုက်စားကြ၏။ ဘဏ္ဍာများနှင့် အဘိုးထိုက်
သောဥစ္စာများကို လုယူကြ၏။ ပြည်အလယ်၌
၂၆ မုဆိုးမ တို့ကို များပြား စေကြ၏။- ယဇ်ပရော

ထိုထိုသို့ သူ့ည်ထည်း၊ ငါ၏ တရားကို ဖျက်၍၊ ငါ
၏သန့်ရှင်းရာ ဌာနကို ထည်း၊ ညစ်ညူး စေကြ၏၊
သန့်ရှင်းသော အရာ၊ မသန့်ရှင်း သော အရာတို့
ထိုမပိုင်းခြား၊ စင်ကြယ်သော အရာ၊ မစင်ကြယ်
သောအရာတို့ကို ရောနှောကြ၏၊ ငါ၏ဥပုသ်နေ့
တို့မှထည်း ရှောင်ရှားတတ်ကြ၏၊ သူတို့အထဲ၌ငါ
၇ သည်ရှုတ်ချခြင်းကိုခံရ၏။-မင်းတို့သည်ထည်း
အကောင် ကိုကိုက်ဖြတ် သော တောခွေး ကဲ့သို့
ပြည်အထဲ၌ဖြစ်၍၊ မတရားသော မီးပွားကို
ရှာလိုသောငှါ လူအသက်ကိုသတ်၍၊ လူတပါး
၈ တို့ကိုလုတ်သင်ပယ်ရှင်းတတ်ကြ၏။-ပရောဖက်
တို့ထည်း၊ အရှင် ထာဝရ ဘုရား မိန့် တော်မူ
သည်ဟု၊ ထာဝရဘုရားမိန့်တော်မမူသဲ၊ အချည်း
နှီးသော အရာကို မြင်၍၊ မုသာစကားကို ဟော
ပြောလျက်၊ သူတို့ကိုအင်္ဂတေနှင့် မွမ်းမံကြ၏။-
၉ ပြည်သူ ပြည် သား တို့ သည်ထည်း၊ ညှဉ်း ဆဲ
ခြင်း၊ ထားပြတိုက်ခြင်း၊ ဆင်းရဲ ငတ်မွတ်သော
သူ တို့ ကို နှိပ် စက် ခြင်း၊ တပါး အမျိုး သား တို့
အားမတရားသဖြင့်ညှဉ်းဆဲခြင်းကိုပြုကြ၏။-
၀ ထို ပြည် ကို ငါမဖျက်ဆီး စေခြင်းငှါ ကွယ်ကာ
သော သူ၊ မြို့ ရိုး ပွတ် ပေါ်မှာ ရပ် ၍ ဆီးတား
၁ သောသူ တယောက်ကို မှ ငါရှာ၍ မတွေ့။- ထို
ကြောင့်၊ ငအမျက်ကို ငါသွန်းလောင်းလျက်၊ င
ဒေါသ မီးဖြင့် သူတို့ကိုမြှို့၍၊ သူတို့ အပြစ်ကို သူ
တို့ခေါင်းပေါ်သို့ ရောက်စေမည်ဟု၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူ၏။

၂၃

၁ တဖန် ထာဝရ ဘုရား၏ နှုတ် ကပတ် တော်
၂ သည်ငါ့ဆီသို့ရောက်လာ၍၊-အချင်းလူသား၊အ
၃ မိဖွားလွှဲပြားသော ညီအစ်မ နှစ်ယောက်ရှိ၏။-သူ
တို့သည်အဲဂုတ္တုပြည်၌ငယ်စဉ်အခါ၊ အဲဂုတ္တုပြည်
၌မတရားသော မေထုန်ကိုပြုကြ၏၊ ထိုပြည်၌သူ
တို့၏အမြွှာကို ရွတ်နယ်၍ အပျိုမ အသရေကို
၄ ရှုတ်ချကြ၏။-အစ်မကား အဟောလ၊ ညီမကား
အဟောလိဗ အမည်ရှိ၏၊ ထိုသူနှစ်ယောက် တို့
သည် ငါ၏ခင်ပွန်းဖြစ်၍သားသမီးတို့ကို ဖွားမြင်
ကြ၏၊ အဟောလအမည်သည်ရှမာရိဟူ၍၎င်း၊
အဟောလိဗ အမည် သည် ယေရုရှလင် ဟူ ၍
၎င်းဆိုလိုသတည်း။
၅ အဟောလသည် ငါ ၏ ခင်ပွန်း ဖြစ်စဉ် အ
၆ ခါ၊ မတရားသော မေထုန်ကို ပြု၏၊ မိမိ ရည်းစား
အညီးတွေသော၊ ပြာသော အဝတ်ကို ဝတ်သော

မိမိဖေမ် နီးချင်း အာရှုရိအမျိုး၊ ထားမိုက် စစ်မ
ဝန်မင်းချစ်ဖွယ်သောလုလင်၊ မြင်းစီးသူရဲ ထိုထို
၇ ထပ်မက်၏။- ထိုအာရှုရိ လူကောင်း လူမြတ်အ
ပေါင်းတို့ နှင့် မတရားသောမေထုန် ကိုပြု၏၊တပ်
မက်သောသူအပေါင်းတို့၏ရုပ်တုရှားနှင့်ကိုယ်
၈ ကို ညစ်ညူးစေ၏။- အသက် ငယ် စဉ်အခါ အဲ
ဂုတ္တုပြည်၌ လူနှင့် သင့်ရာ၍၊ အပျိုစ အသရေ
ကိုရှုတ်ချသဖြင့်၊ အထပ်ထပ်မတရား သောမေ
ထုန်ကို ပြုကြသည်နှင့်အညီ၊ အဲဂုတ္တု မေထုန်ကို
၉ သည်းမခွာနိုင်ဖြစ်၍၊မှိဝဲလျက်နေ၏။- ထိုကြောင့်ရာ
တပ်မက် သောရည်းစား၊အာရှုရိလူတို့၌ သူကို
၁၀ ငါအပ်၍။- သူတို့သည်အဝတ်ကိုချွတ်ကြ၏၊ သူ
၏သား သမီးတို့ကို သိမ်းသွား၍၊ သူကို ထားနှင့်
ကွပ်ဖျက် ကြ၏၊ ထိုသို့အပြစ် စီရင် ခြင်းကို ခံရ
သော အား ဖြင့်၊ မိန္မ တကာ တို့ တွင် ကျော် စော
သောမိန္မဖြစ်လေ၏။
၁၁ ထိုအမှုကိုညီမအဟောလိဗသည်မြင်သော
အခါ၊ အစ်မထက် သာ၍တပ်မက်သော မိတ်နှိုး
သည်နှင့်၊ အစ်မထက် သာ၍မတရားသောမေ
၁၂ ထုန်ကို ပြု၏။- တင့်တယ် သော အဝတ်ကို ဝတ်
သော မိမိ အိမ်နီးချင်း အာရှုရိ အမျိုးသား မိုက်
မင်း၊ ဝန်မင်း၊ ချစ်ဖွယ်သောလုလင်၊မြင်းစီးသူရဲ
၁၃ တို့ကို တပ်မက်၏။- ထိုအခါ သူသည် ညစ်ညူး
ကြောင်းနှင့်၊ အစ်မ လိုက် သော လမ်းသို့ လိုက်
၁၄ ကြောင်းကိုငါသိမြင်၏။-အထူးသဖြင့်မတရား
သော မေထုန်ကို ပြုသော အကြောင်း အရာ ဟူမူ
ကား၊ ခါး စည်းကို စည်းလျက်၊ ထူးဆန်း သော
ပန်းဆိုးခေါင်းပေါင်းကို ပေါင်းလျက်၊ ရှေး ဖွား
ရာဌာနခါလဒဲပြည်ဗာဗုလုန်မြို့သားကဲ့သို့၊ မင်း
၁၅ ၏ အသွင်ကို ဆောင်လျက်၊- ခုတ်ထရံ၌ ထင်း
ထပတားနှင့် ရေးသောခါလဒဲလူ၏ ရုပ်ပုံတို့ကို
၁၆ မြင်သောအခါ၊- တပ်မက်သောမိတ်ရှိ၍၊ ခါလ
၁၇ ဒဲပြည်သို့တမန်ကိုစေလွှတ်လေ၏။-ဗာဗုလုန်မြို့
သားတို့သည် သူနှင့် သံဝါသပြုရာ စုတင်သို့လာ
၍၊ မတရား သော မေထုန်ကို ပြုသော အားဖြင့်
ညစ်ညူးစေကြ၏။သူသည်ထည်း၊ ထိုသူတို့ကို ရွံ
ရှာသည်တိုင်အောင် ညစ်ညူးခြင်းကို ခံလေ၏။-
၁၈ ထိုသို့ မတရားသော မေထုန်ကို ပြု ခြင်း၊ အဝတ်
အ ရှည်း စည်း မှိခြင်း ကို ထင်ရှား စေ၍ ပြလေ
ကြောင့်၊ ငါသည် သူအစ်မကို ရွံရှာသကဲ့သို့၊ သူ
၁၉ ကိုထည်း ရွံရှာ၏။- အသက် ငယ် စဉ်အခါ အဲ
ဂုတ္တုပြည်၌ မှားယွင်းသောကာလကို အောက်မေ့

မေ့သဖြင့်၊ မှားယွင်းခြင်းကို အထပ်ထပ်ပြု၏။-
၂၀ မြည်းအင်္ဂါနှင့် တူသောအင်္ဂါ၊ မြင်း သုတ်ရည်နှင့်
တူသော သုတ် ရည် ရှိသော ထို ရည်းစား တို့ကို
ပင်တပ်မက်လေသည်တကား။
၂၁ သို့ဖြစ်၍၊ အိုအဟောလိဗ၊ အဲဂုတ္တု လူတို့
သည်သင့်အသရေကို ရွတ်ချ၍၊ အပျိုမသခြတ်
တို့ကိုပွတ်နယ်ကြသဖြင့်၊သင်အသက်ငယ်စဉ်
အခါ သင်ပြုသော အဓမ္မအမှုကို အထပ်ထပ် ပြု
၂၂ သောကြောင့်၊-အရှင်ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ သင် ရွံရှာသော ရည်းစားတို့ကို ငါ
ထစေပြီးလျှင်၊ အရပ်ရပ်တို့က လာ၍ တိုက်စေ
၂၃ မည်။- အာရှုရိ လူများ နှင့် တကွ အကြီးအကဲ၊
သူဌေးသူကြွယ်၊ ထင်ရှားသောသူဖြစ်သောဗာ
ဗုလုန် လူ၊ ခါလဒဲ လူများ တည်း ဟူ သော၊ ချစ်
ဖွယ်သောလူပျို၊ မြင်းမင်း၊ ဝန်မင်း၊မှူးကြီးမတ်
၂၄ ကြီး၊ မြင်းစီးသူရဲ အပေါင်းတို့သည်၊- စစ်တိုက်
ထက်စက်နှင့် လှည်းရထား ပါလျက်၊ လူအလုံး
အရင်း နှင့်တကွ လာ၍ဒိုင်း၊ လွှား၊ သံခမောက်
လုံး တို့ကို သင့် ပတ် လည်၌ ခင်း ကျင်း ကြလိမ့်
မည်။ တရားစီရင်သောအခွင့်ကို သူတို့၌ ငါအပ်
ပေး၍၊ သူတို့သည် မိမိ ထုံးစံ အတိုင်း စီရင်ကြ
၂၅ လိမ့် မည်။- သူတို့ သည် သင့် ကို မယုံ မည် အ
ကြောင်း၊ငါပြု၍သင့်ကိုကြမ်းတမ်းစွာစီရင်ကြ
လိမ့်မည်။ သင့်နှာခေါင်း၊နားရွက်တို့ကိုဖြတ်၍
အကျန်အကြွင်းကို ထားနှင့် စည်းကြလိမ့်မည်။
သင်၏ သားသမီးတို့ကို သိမ်းသွား၍၊ ကျန်ကြွင်း
၂၆ သောသူတို့ကို မီးရှို့ကြလိမ့်မည်။- သင့် အဝတ်
ကိုလည်း ချွတ်၍၊တင့်တယ်သောတန်ဆာတို့ကို
၂၇ သိမ်းယူကြလိမ့်မည်။- ထိုသို့သင်သည် နောက်
တဖန်မျှော်မကြည့်၊ အဲဂုတ္တုပြည်ကို မအောက်
မေ့စေ ခြင်း ငှါ၊ သင်ပြု သော အဓမ္မ အမှု နှင့် အဲ
ဂုတ္တုပြည်မှ ပါသောအဓမ္မမေထုန်ကို ငါငြိမ်းစေ
မည်။
၂၈ တဖန်အရှင်ထာဝရဘုရားမိန့်တော်မူသည်
ကား၊ သင်မုန်းသောသူ၊ သင် ရွံရှာသော သူတို့
၂၉ လက်သို့သင့်ကိုငါအပ်သဖြင့်၊-သူတို့သည်မုန်း
သည်အတိုင်းပြုလျက်. သင်ကြိုးစား၍ဆည်းပူး
သမျှသော ဥစ္စာတို့ကို သိမ်းယူ၍၊ သင့်ကိုယ်၌
အဝတ်မရှိ၊အချည်းစည်းရှိရစ်စေကြလိမ့်မည်။
သင်မှားယွင်း၍ အချည်းစည်းရှိခြင်း၊အဓမ္မအမှု
ကိုပြုခြင်း၊မတရားသောမေထုန်ဖို့လိုက်ခြင်းအ
၃၀ ရာသည်ထင်ရှားရလိမ့်မည်။- သင်သည်တပါး
အမျိုးသားတို့နှင့် မှားယွင်း၍၊ သူတို့ရုပ်တုများ
နှင့်ညစ်ညူးသောကြောင့်၊ ထိုသို့ငါစီရင်မည်။-
၃၁ သင်သည်အစ်မလိုက်သောလမ်းကိုလိုက်သော
ကြောင့်၊ သူသောက် သော ခွက်ကို သင့် လက်၌
၃၂ ငါထား မည်။- အရှင် ထာဝရဘုရား မိန့် တော်
မူ သည် ကား၊ သင့် အစ် မ သောက် သော ခွက်၊
ကျယ်၍ စောက် သော ခွက် ကို သင် သောက် ရ
မည်။ ထို ခွက်၌ များစွာ ဝင်သည် ဖြစ်၍၊ သင်
သည်ကဲ့ရဲ့ခြင်းနှင့် ပြက်ချော်ခြင်းကို ခံရမည်။-
၃၃ သင့်အစ်မရှမာရိသောက်သောခွက်၊မှိုင်တွေစေ
သောခွက်ကိုသောက်၍၊ ယစ်မူး ခြင်း၊ ညှိုးငယ်
၃၄ ခြင်း နှင့် ဝရလိမ့်မည်။- ထို ခွက်ကို သောက်၍
စုတ်ပြီးမှ ခွက်ခြမ်းကိုကိုက်ခဲ၍၊ ကိုယ်သခြတ်
တို့ကို ဆွဲ ဖြတ်ရလိမ့်မည်။ ငါ ပြောပြီဟု အရှင်
၃၅ ထာဝရ ဘုရားမိန့် တော် မူ၏။- သို့ဖြစ်၍၊ သင်
သည်ငါ့ကိုမေ့လျော့၍၊သင့်ကြောနောက်သို့ငါ့ကို
ပစ်လိုက်သောကြောင့်၊သင်သည်အဓမ္မအမှုနှင့်
မတရားသောမေထုန်အမှု၏အပြစ်ကိုခံလော့ဟု၊
အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၃၆ တဖန် ထာဝရဘုရားသည် ငါ့အားမိန့်တော်မူ
သည်ကား၊အချင်းလူသား၊သင်သည်အဟောလ
နှင့်အဟောလိဗတို့ကိုစစ်ကြောလော့။ အကယ်
စင်စစ် သူတို့ပြုသော စက်ဆုပ် ရွံရှာ ဖွယ် အမှုတို့
၃၇ ကိုဖော်ပြရမည်။-အကြောင်းမူကား၊သူတို့သည်
မျောက်မထားကြပြီ။ လူအသက်ကိုသတ်သော
အပြစ်ရှိကြ၏။ ရုပ်တုတို့နှင့်ပင် မျောက်မ ထား
ကြပြီ။ငါ့အဖို့ ဖွားမြင်သောသားတို့ကိုပင်ရုပ်တု
၃၈ စားစရာ တို့မီးဖြင့်ပူဇော်ကြပြီ။-ထိုမှတပါး၊ငါ
၌ပြုသောအမှုဟူမူကား၊ထိုနေ့ချင်းတွင်ငါ၏သန့်
ရှင်းရာဌာနကို ညစ်ညူးစေ၍၊ ငါ၏ ဥပုသ်နေ့တို့
၃၉ ကို ရှုတ်ချကြပြီ။- ကိုယ်သား သမီးတို့ကို ရုပ်တု
ရှေ့တွင်သတ်ပြီးမှ၊ထိုနေ့ချင်းတွင်ငါ၏သန့်ရှင်း
ရာဌာနကိုညစ်ညူးစေခြင်းငှါလာကြ၏။ ထိုသို့င
၄၀ ါ့အိမ်တော်အလယ်၌ပြုကြပြီတကား။- ထိုမှတ
ပါး၊ သင်သည်တမန်တို့ကိုစေလွှတ်၍၊ဝေးသော
အရပ်မှယောက်ျားတို့ကိုခေါ်၍သူတို့သည်လာ
ကြ၏။သူတို့အဖို့သင်သည်ရေချိုးခြင်း၊မျက်စိ၌
ဆေးထိုးခြင်း၊တန်ဆာဆင်ခြင်းကိုပြုပြီးလျှင်၊-
၄၁ အသရေရှိသော ခုတင်ပေါ်၌ ထိုင်၍၊ ငါ့နံ့ သာ
ပေါင်းနှင့် ငါ့ဆီကို တင်သော စားပွဲကို ခုတင်ရှေ့
၄၂ မှာခင်းလေ၏။-ပျော်မွေ့လျက်နေသောလူအလုံး
အရင်းမြည်သံကိုလည်းကြားရ၏။ အခြားသော

လူအများတို့နှင့် အတူ တောက လာ၍၊ လက်၌ လက်ကောက်၊ ခေါင်း၌ တင့်တယ် သော သရဖူ ကိုဆောင်းသောသောက်ကြူးသောသူတို့သည်လည်း ပါကြ၏။

၄၃ ငါကလည်း၊ ထိုသူတို့သည် ဤမိန်းမနှင့်ပင်အ ထပ်၍ မတရားသောမေထုန်ကို ပြုကြလိမ့်မည် ဟောသူ၊ အိုသည်ထိုင်အောင်ပြည်တန်ဆာလုပ်

၄၄ သောထိုမိန်းမကို ရည်မှတ်၍ ဆိုသော်၊ — ပြည်တန် ဆာမိန်းမရှိရာသို့ယောက်ျားဝင်တတ်သကဲ့သို့၊ သူ တို့သည်ထိုအဓမ္မမိန်းမအဟောလာနှင့်အဟောလိ

၄၅ ဗမ်ရှိရာသို့ ဝင်ကြ၏။ — ထို့ကြောင့်၊ ဖြောင့်မတ်သော သူတို့သည်၊ လူအသက်ကို သတ်သော အပြစ်ရှိ သောမိန်းမဖြစ်သောကြောင့်၊ ဖြောင့်မတ်သော မိန်းမ၊ လူအသက်ကို သတ်သောမိန်းမကိုစီရင်သကဲ့ သို့၊ ဖြောင့်မတ်သော သူတို့သည် စီရင် ကြလိမ့်

၄၆ မည်။ — အရှင် ထာဝရ ဘုရား မိန့်တော် မူသည် ကား၊ ထိုမိန်းမတို့ရှိရာသို့လူအထုံးအရင်းကို ငါရှိ စေ၍၊ လုယက် သိမ်းသွား စေခြင်းငှါ အခွင့်ပေး

၄၇ စည်း — ထိုအထုံးအရင်းသည်မိန်းမတို့ကို ခဲနှင့်ပြစ် ၍၊ ထားနှင့် ခုတ်ကြလိမ့်မည်။ သား သမီး တို့ကို

၄၈ သတ်၍ အိမ်တို့ကိုလည်း မီးရှို့ကြလိမ့်မည်။ — ထို သို့အခြားသောမိန်းမရှိသမျှတို့သည်သင်တို့ကဲ့သို့၊ အဓမ္မအမှုကို မပြုဘဲ သတိရစေခြင်းငှါ၊ သင်တို့ အဓမ္မအမှုကို တပြည်လုံး၌ ငါပယ်ရှင်းမည်။ —

၄၉ လူအထုံးအရင်းသည် သင်တို့ အဓမ္မအမှု၏ အ ပြစ်နှင့်အလျောက်စီရင်၍၊ သင်တို့သည်ရုပ်တု များနှင့် ဆိုင်သောအပြစ်ကိုခံရလျှက်၊ ငါသည် အရှင် ထာဝရ ဘုရား ဖြစ် ကြောင်းကို သိ ရကြ လိမ့်မည်ဟုမိန့်တော်မူ၏။

၂၄

၁ သက္ကရာဇ်ကိုးနှစ်၊ ဒသမလဆယ်ရက်နေ့တွင်၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်

၂ ငါ့ဆီသို့ရောက်လာ၍၊ — အချင်းလူသား၊ ဤမည် သောနေ့၊ ထိုနေ့ရက်ကို မှတ်လော့။ ယနေ့၌ ဗာဗုလုန်ရှင်ဘုရင်သည်ယေရုရှလင်မြို့ကို ဝိုင်း

၃ ထားပြီ။ — ပုန်ကန် တတ် သော အမျိုး အား ဆည်း ပုံစကားထည်းဟူသော၊ အရှင် ထာဝရ ဘုရားမိန့်တော်မူသောစကားကို ဆင့်ဆိုရမည် မှာ၊ အိုးကင်း ကို မီး ပေါ်၌ တင် ထား၍ ရေ ကို

၄ လောင်း လော့။ — အခဲ သား တစ် များ၊ ကောင်း သော အသားတစ်တို့ကို စုထား၍၊ ပေါင်၊ ပခုံးအစရှိ သောအကောင်းဆုံးသောအရိုးတို့ကိုအိုးထင်း၌

၅ အပြည့်ထည့်လော့။ — သိုးအကောင်းဆုံးတို့ကို ယူပြီးလျှင်၊ အရိုးအရှို့ထို့ကိုအိုးကင်း၏အောက် မှာပုံ၍၊ အိုးကင်း ထဲမှာ အရိုး တို့ကို ကျက်စေ

၆ ခြင်းငှါ ကြပ်ကြပ်ဆူစေလော့။ — ဤအမှု၌အရှင် ထာဝရဘုရားမိန့်တော်မူသည်ကား၊ လူအသက် ကို သတ်တတ် သောမြို့၊ သံချေး တက်၍ မှိုသေး သော အိုးကင်း သည် အမင်္ဂလာရှိ၏။ သားတစ် တို့ကို တခု နောက် တခု ထုတ် လော့၊ စာရေးထံ

၇ မပြုနှင့်။ — အကြောင်းမူကား၊ ထိုမြို့သတ်သောသူ ၏အသွေးသည်မြို့အလယ်၌ရှိ၏။ ထိုအသွေးကို မြေမှုန့်နှင့် ဖုံးခြင်းငှါ မြေပေါ်မှာ သွန်း သည်မ ဟုတ်၊ ရှင်းလင်းသောကျောက်ပေါ်မှာတင်ထား

၈ ပြီ။ — ငါသည် ထည်း အပြစ် ဒဏ် ပေး မည် အ ကြောင်း၊ ဒေါသအမျက်ထွက်စေခြင်းငှါ၊ ထိုအ သွေးကို မဖုံးဘဲရှင်းလင်းသောကျောက်ပေါ်မှာ တင်ထားပြီ။

၉ ဤအမှု၌ အရှင် ထာဝရ ဘုရား မိန့် တော်မူ သည်ကား၊ လူအသက်ကို သတ်တတ်သော မြို့ သည်အမင်္ဂလာရှိ၏။ ကြီးစွာသောမီးပုံကို ငါစီ

၁၀ ရင်မည်။ — ထင်းများကိုပုံထား၍မီးရှို့လော့။ အ ခဲသား လျော့၍ မြိန်စွာ သော စား ဘွယ် ဖြစ်စေ

၁၁ လော့၊ အရိုးတို့ကိုလည်းကျွမ်းစေ။ — ထိုနောက်၊ အထည် အရာမှ မပါဘဲ မီးခဲ ပေါ်မှာ တင်ထား လော့။ ကြေးနီပူ၍မီးတောက်စေ။ အိုးကင်း၌ပါ သော အညစ် အကြေးကို ဖျာရည် ကြို၍ သံချေး

၁၂ ကုန်စေ။ — ကြိုးစား၍ ပင်ပန်းသော်လည်း၊ များ စွာသောသံချေးမထွက်တတ်၊ မီးအားဖြင့်မကုန်

၁၃ တတ်။ — သင်၏အညစ်အကြေး၌အဓမ္မအမှုပါ၏။ ငါဆေးကြော၍ သင်သည်ဆေးကြောခြင်းကို မ ခံသောကြောင့်၊ ငါ၏အမျက်အရှိန်သည်သင့်အ ပေါ်သို့ မရောက် မချင်း တိုင် အောင်၊ သင်၏ အ

၁၄ ညစ် အကြေးကို မ ဆေး ကြော ရ။ — ငါ ထာဝရ ဘုရားပြောပြီ။ ပြောသည်အတိုင်းငါပြု၍ ပြည့် စုံစေမည်။ နောက်သို့မဆုတ်၊ မနှစ်မြော၊ နောင်တ မရ၊ သင်ကျင့်ကြံပြုမူသမျှအတိုင်း ငါစီရင်မည် ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။

၁၅ ထာဝရ ဘုရား၏ နှုတ်ကပတ်တော်

၁၆ သည်ငါ့ဆီသို့ ရောက် လာ၍၊ — အချင်းလူသား၊ သင်ကြည့်ရှုလို ပွယ်သောသူကို ငါသည်ဒဏ် ခတ်၍ ပယ်ရှား မည်။ သို့ရာတွင်၊ သင် သည်ငို ကြွေး မြည်တမ်းခြင်းကို မပြုရ။ မျက်ရည် မကျ

၁၇ ရ။ — ထိုးထိုး ညည်းတွားလော့။ သေသောသူအ

ထွက် မြည်တမ်းခြင်းကို မပြုနှင့်၊ ခေါင်းပေါင်း
ပေါင်း၍ ခြေနင်းကို စီးလော့၊ နှုတ်ကို မဖုံးနှင့်၊
ဆင်းရဲသောသူ၏အစာကိုမစားနှင့်ဟုမိန့်တော်
၁၈ မူ၏။- ထိုသို့ ငါသည် နံနက် အချိန်၌ လူများတို့
အားကြားပြော၏။ညဦးအချိန်၌ငခင်ပွန်းသည်
သေ၏။ မှာထားတော်မူသည် အတိုင်း နက်ဖန်နံ
၁၉ နက်မှငါပြု၏။-လူများတို့ကလည်း၊ဤသို့သင်ပြု
သော အမှု သည် ငါတို့နှင့် အဘယ် သို့ ဆိုင် သ
နည်း။ ငါတို့အားမပြောသလောဟု ငအားမေး
၂၀ ကြသော်၊- ငါက၊ ထာဝရဘုရား၏ နှုတ်ကပတ်
၂၁ တော်သည် ငဆီသို့ ရောက် လာ၍၊- အရှင် ထာ
ဝရ ဘုရား၏ အမိန့်တော်ကို ဣသရေလ အမျိုး
အား ဆင့်ဆိုရမည် မှာ၊ ငါ၏ သန့်ရှင်းရာ ဌာန၊
သင်တို့ အစွမ်း သတ္တိ အထွဋ် အမြတ်၊ သင် တို့
ကြည့် ရှုလို ဖွယ် သော အရာ၊ အလွန် နှစ် ခြော
သော အရာကို ငါ ရှုတ်ချမည်။ သင်တို့ ဖွား မြင်
သော သား သမီး တို့ သည် ထား ဖြင့် ဆုံး ကြလိမ့်
၂၂ မည်။- ထိုအခါသင်တို့သည် ငါပြုသကဲ့သို့ ပြုရ
ကြလိမ့်မည်။ နှုတ်ကိုမဖုံး၊ဆင်းရဲသောသူတို့၏
၂၃ အစာကိုမစားရကြ။-ခေါင်းပေါင်းပေါင်း၍ခြေ
နင်းကိုစီးရကြလိမ့်မည်။ ငိုကြွေးမြည်တမ်းခြင်း
ကိုမပြုရကြ။ ကိုယ်အပြစ်ကြောင့် ပိန်ကြုံ၍ တ
ယောက်ကို တယောက် ညည်း တွား ရကြ လိမ့်
၂၄ မည်။- ထိုသို့ ယေဇကျေလသည် သင်တို့ အား
ပုပ္ပ နိမိတ် ဖြစ် ရ၏။ သူပြုသမျှ အတိုင်း သင်တို့
သည်၊အမှုရောက်သောအခါ၊ပြု၍ငါသည် ထာ
ဝရဘုရားဖြစ်ကြောင်းကိုသိရကြလိမ့်မည်။
၂၅ အချင်းလူသား၊သင်၏အမှုမှုကား၊ သူတို့အ
စွမ်းသတ္တိ၊ဝါကြွားစရာဘုန်း၊ ကြည့်ရှုလို ဖွယ်
သောအရာ၊စိတ်စွဲလမ်းသောအရာကိုငှင်၊ သား
၂၆ သမီး တို့ ကို ငှင် ငါ ပယ်ရှား သောအခါ၊- လွတ်
သော သူ တ စုံ တ ယော က် သ ည် သင် ရှိ ရာ သို့
၂၇ ရောက် လာ၍ ကြား ပြော လိမ့်မည်။- ထို အခါ
လွတ် သော သူ နှင့် တွေ့ သဖြင့် သင်၏ နှုတ် ပွင့်
လိမ့်မည်။ စကားမပြောဘဲနေမြဲ လွန်၍ ပြော
ပြောရလိမ့်မည်။ ထိုသို့သင်သည်သူတို့အားပုပ္ပ
နိမိတ်ဖြစ်၍၊ ငါသည်ထာဝရဘုရားဖြစ်ကြောင်း
ကိုသူတို့သိရကြလိမ့်မည်ဟုမိန့်တော်မူ၏။

၂၅

၁ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂ ငဆီသို့ ရောက် လာ၍၊- အချင်းလူသား၊ သင်
သည် အမ္မုန် အမျိုး သားတို့ တဘက်၌ မျက်နှာ
၃ ထား၍ပရောဖက်ပြုလျက်၊-ဆင့်ဆိုရမည်မှာ၊အ
ရှင် ထာဝရဘုရား၏ အမိန့်တော်ကို နားထောင်
ကြလော့။ အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ရှုတ်ချလျက်ရှိသောငါ၏ သန့်ရှင်းရာဌာန
ကိုငှင်၊ လူဆိတ်ညံခြင်းသို့ ရောက်သောဣသရေ
ထံ ပြည် ကို ငှင်၊ သိမ်း သွား ခြင်း ကို ခံ ရ သော
ယုဒ အမျိုး ကိုငှင်၊ အေ့ဟေ ဟု သင် ဆိုမိ သော
၄ ကြောင့်၊- သင့်ကိုအရှေ့ပြည်သားတို့အားငါအ
ပိုင်ပေးမည်။ သူတို့သည်သင်၏ အထဲ၌ ဘုံဗိမာန်
မှန်တို့ကိုတည်ဆောက်၍နေရာကျကြလိမ့်မည်၊
သင်၏ အသီးအနှံကို စား၍သင်၏ နို့ကိုသောက်
၅ ကြလိမ့် မည်။- ရဗ္ဗာ မြို့ ကို ကုလားအုတ် တင်း
ကုပ်၊အမ္မုန်ပြည်ကိုသိုးကျက်စားရာဌာနဖြစ်စေ
မည်။ ငါသည် ထာဝရ ဘုရား ဖြစ် ကြောင်း ကို
၆ သင်တို့သိရကြလိမ့်မည်။-သင်သည်ဣသရေလ
ပြည်ကို မနာလိုသောစိတ်အားကြီးလျက် ထက်
ခုပ်တီးခြင်း၊ခြေနှင့်ဆောင့်ခြင်းကိုဝမ်းမြောက်
၇ စွာပြုသောကြောင့်၊- ငါသည် သင့်ကို တိုက်၍
လူ အမျိုး မျိုး လုယူ ဖို့ရာ အပ်မည်။ လူနေရာ အ
တိုင်း တိုင်း အ ပြည် ပြည် ထဲ က သင့် ကို သုတ်
သင်ပယ်ရှင်းမည်။ ငါသည်ထာဝရ ဘုရား ဖြစ်
ကြောင်းကိုသင်သိရလိမ့်မည်ဟု၊အရှင်ထာဝရ
ဘုရားမိန့်တော်မူ၏။
တဖန် မောအ ပြည် နှင့် စိရမြို့က၊ ယုဒ အမျိုး
သည် တပါး အ မျိုး သား အ ပေါင်း တို့ နှင့် တူ
၉ သည်ဟုဆိုသောကြောင့်၊-အရှင်ထာဝရဘုရား
မိန့်တော်မူသည် ကား၊ မောအ နယ်၊ ပြည် စွန်း၊
နားမှာနိုင်ငံ၏ဘုန်းဖြစ်သောဗက်ယေရှိမုတ်မြို့၊
ဗာလမောင်မြို့၊ကိရယသိမ်မြို့တို့ကိုငါလှန်ထား
မည်။-ထိုမြို့တို့ကိုအမ္မုန်အမျိုးသားတို့နှင့်တကွ
အရှေ့ပြည်သားတို့အားအပိုင်ပေးမည်။ အမ္မုန်
၁၀ ပြည်သားတို့ကိုတိုင်းနိုင်ငံစုတွင်မမှတ်ရ။- မော
အပြည်ကိုလည်း ငါသည် အပြစ်ဒဏ်စီရင်၍၊
ငါသည် ထာဝရဘုရားဖြစ်ကြောင်းကို သူတို့သိ
ရကြလိမ့်မည်ဟု၊အရှင်ထာဝရဘုရားမိန့်တော်
မူ၏။
၁၂ တဖန်ဧဒုံပြည်သည်ချင်ရဲပြေစေခြင်းငှါ၊ယုဒ
အမျိုး တဘက်၌နေ၍ အလွန်ပြစ်မှားသဖြင့်၊ အ
၁၃ ပြစ်ဒဏ် စီရင် သောကြောင့်၊- အရှင် ထာဝရ
ဘုရား မိန့် တော် မူသည် ကား၊ ဧဒုံပြည် ကို ငါ
တိုက်၍ လူ နှင့်တိရစ္ဆာန် တို့ကို ပယ်ဖြတ်မည်။
တေမန်မြို့မှစ၍လူဆိတ်ညံစေမည်။ဒေဒန်မြို့တိုင်

၁၄ ဒေါင်ထားဖြင့် ဆုံးရကြလိမ့်မည်။- ငါ၏လူ ဣ
သရေလ အမျိုးသားများ အားဖြင့်၊ ဧဒုံပြည်ကို
ငါ၏ ချင်ရဲ ပြေစေခြင်းငှါ ဒဏ်ပေးမည်။ သူတို့
သည်ငါ၏အမျက်အမျက်အမျှိန်အားကြီးသည်အတိုင်း
ဧဒုံပြည်ကို ပြုကြလိမ့်မည်။ ငါပေးသောအပြစ်
ဒဏ်ကို သိရကြလိမ့်မည် ဟု၊ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၅ တဖန် ဖိလိတ္တိလူတို့သည် အငြိုးထား၍ မနာ
လိုသောစိတ်အားကြီးသည်နှင့် ဖေါ်သအလိုကို
ပြည့်စုံစွာပြု၍၊ ရှင်းရှင်းဖျက်ဆီးခြင်းငှါအပြစ်
၁၆ ဒဏ်ပေးသောကြောင့်၊- အရှင်ထာဝရဘုရား
မိန့်တော်မူသည်ကား၊ ဖိလိတ္တိလူတို့ကိုငါတိုက်
၍ ခေရသိ လူ တို့ ကို ပယ် ဖြတ် မည်။ ပင်လယ်
ကမ်းနားး၌ ကျန်ကြွင်းသော သူတို့ကို ဖျက်ဆီး
၁၇ မည်။- ပြင်းစွာသော ဆုံးမခြင်းနှင့်တကွ ကြီးစွာ
သောအပြစ်ဒဏ်ကို ပေးမည်။ ထိုသို့ငါ၏ချင်ရဲ
ပြေစေခြင်းငှါဒဏ်ပေးသောအခါ၊ငါသည်ထာ
ဝရဘုရား ဖြစ် ကြောင်း ကို သူ တို့ သိ ရကြ လိမ့်
မည်ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။

၂၆

၁ သတ္တရာစ်ဆယ်တခု၊ပဉ္စမလတရက်နေ့တွင်၊
ထာဝရဘုရား၏နှုတ်ကပတ်တော်သည်ငါ့ဆီသို့
၂ ရောက်လာ၍၊- အချင်းလူသား၊တုရုမြို့က၊ဧဟ့
ဟေ၊ တိုင်း နိုင်ငံတို့၏ တံခါးဖြစ် သော ယေရု ရှ
လင်မြို့ သည် ပျက် စီး သည် ဖြစ် ၍၊ ငါ့ထံ သို့
ရောက်လိမ့်မည်။ထိုမြို့ဆိတ်ညံသောကြောင့်ငါ
စည်ပင်လိမ့်မည်ဟု၊ ယေရုရှလင်မြို့တဘက်၌ဆို
၃ မိသောကြောင့်၊- အရှင်ထာဝရဘုရား မိန့်တော်
မူသည်ကား၊ ဪတုရုမြို့၊ သင့်တဘက်၌ ငါနေ၏။
သမုဒ္ဒရာလှိုင်းတံပိုးတက်သကဲ့သို့၊လူအမျိုးမျိုး
၄ တို့သည် သင့်ကို တက်၍ တိုက် စေမည်။- သူတို့
သည် တုရု မြို့ရိုးကို ဖျက်၍ ပြအိုးတို့ကိုဖြိုချကြ
လိမ့်မည်။မြေမှုန့်ကိုငါခြစ်စွာ၍ရှင်းလင်းသော
၅ ကျောက်ကဲ့သို့ဖြစ်စေမည်။-ပင်လယ်အလယ်၌
ပိုက်ကွန်လှန်းရာအရပ်ဖြစ်လိမ့်မည်။ငါပြောပြီ
ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။ လူမျိုးလု
၆ ယူရာ ဖြစ်ရလိမ့်မည်။- လယ်ပြင်၌ ရှိသောသမီး
တို့သည်ထားဖြင့်သေ၍၊ငါသည်ထာဝရဘုရား
ဖြစ်ကြောင်းကိုသိရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၇ တဖန်အရှင်ထာဝရဘုရား မိန့်တော်မူ သည်
ကား၊ဘုရင်တို့၏ဘုရင် တည်းဟူသော မြောက်
မျက်နှာရှင်ဘုရင်နေဗုခဒ်နေဇာကို၊မြင်းရထား၊
မြင်းစီးသူရဲ၊လူများအလုံးအရင်းနှင့်တကွတုရု
၈ မြို့သို့ ငါဆောင်ခဲ့မည်။- သူသည် လယ်ပြင်၌ရှိ
သော သင်၏ သမီးတို့ကို ထားနှင့် သတ် လိမ့်မည်။
သင့်တဘက်၌ရဲတိုက်ကိုတည်၍ မြေရိုးကိုပုံပြီး
၉ လျှင်၊ ဒိုင်းလွှားတို့ကို ရှိကာလိမ့်မည်။- သင်၏
မြို့ရိုးတဘက်တချက်၊ ဝက်ခွတိုင်၌ တုံးတို့ကိုဆွဲ
ထား၍၊ သင်၏ ရဲတိုက် တို့ကို တူးရွင်းနှင့် ဖြိုချ
၁၀ လိမ့်မည်။-မြင်းများသောကြောင့် မြေမှုန့်သည်
သင့်ကိုဖုံးလွှမ်းလိမ့်မည်။ တိုက်ဖျက်သောမြို့ထဲ
သို့ဝင်တတ်သကဲ့သို့သင်၏မြို့တံခါးသို့ဝင်သော
အခါ၊လှည်းရထားမျိုး၊မြည်သံ၊မြင်းစီးသူရဲတို့
အသံကြောင့် သင်၏ မြို့ရိုးလှုပ်ရှားလိမ့်မည်။-
၁၁ မြင်းခွာတို့ ဖြင့် သင်၏ လမ်းရှိ သမျှ တို့ကို နင်း
လျက်၊ သင်၏လူ တို့ကို ထားနှင့် သတ်၍၊ သင်ရို
သို့စရာ ရုပ်တုဆင်းတုတို့သည်မြေတိုင်အောင်ပြို
၁၂ လဲကြလိမ့်မည်။- သင်၏ဥစ္စာကိုလုယူ၍ သင်၏
ကုန်များကိုလည်းသိမ်းယူကြလိမ့်မည်။သင်၏
အုတ်ထရံ တို့ကို ဖြို၍ တုံမိတ်မှန်တို့ကို ဖျက်ပြီး
လျှင်၊သင်၏ကျောက်၊သစ်သား၊မြေတို့ကိုရေထဲ
မှာချပြစ်ကြလိမ့်မည်။-သင်ဆိုသောသီခြင်းသံ
ကို ငါ ငြိမ်း စေ၍၊ သင် တီး သော စောင်းသံကို
၁၃ နောက် တဖန် အ ဘယ် သူ မျှ မကြား ရ။- သင်
သည် ရှင်းလင်း သောကျောက် ကဲ့သို့ ပိုက်ကွန်
လှန်းရာ အရပ်ဖြစ် ရလိမ့်မည်။ နောက်တဖန်မ
တည်ဖြန်ရ။ငါထာဝရဘုရားပြောပြီဟု၊ အရှင်
ထာဝရဘုရားမိန့်တော်မူ၏။
၁၅ တုရုမြို့ကိုရည်မှတ်၍ အရှင် ထာဝရ ဘုရား
မိန့်တော် မူသည် ကား၊ သင့် အလယ်၌ ကြီးစွာ
သောလုပ်ကြံ ခြင်းအမှုဖြစ်၍၊ ထိခိုက်သောသူ
တို့သည်အော်ဟစ်သောအခါ၊သင်ပြိုလဲခြင်းအ
သံကြောင့် တကျွန်းတနိုင်ငံ အရပ်တို့ သည် တုန်
၁၆ လှုပ်ကြလိမ့်မည်။- သမုဒ္ဒရာ မင်း အပေါင်း တို့
သည်ရာဇပလ္လင်ပေါ်ကဆင်း၍၊အင်္ကျီတော်ကို
၎င်း၊ ချယ်လှယ် သော အဝတ် တော်ကို၎င်း ချွတ်
ပယ်ပြီးမှ၊ တုန်လှုပ်ခြင်း အဝတ်ကို ဝတ်လျက်၊
မြေပေါ်၌ ထိုင်လျက်ခဏခဏတုန်လှုပ်၍၊သင်
၁၇ ၏အမှုကြောင့်မိန်းမောတွေဝေကြလိမ့်မည်။-သူ
တို့က သည်း၊ ဪ ကျော်စော သောမြို့၊ ပင် လယ်
သား နေ၍ ပင် လယ် ၌ အားကြီး သော မြို့၊ ပင်
လယ်သားအပေါင်းတို့ရှိသေဖွယ်သောမြို့သား
နှင့် ပြည့် စုံသောမြို့၊ သင် သည် အဆုံး ပျက်စီး
သေပြီ တကားဟု သင့်အား ဆိုလျက်၊ သင်အ

၁၈ ထွက်မြည်တမ်းကြလိမ့်မည်။- သင်ပြိုလဲသော
နေ့တွင်တကျွန်းတနိုင်ငံအရပ်တို့သည်တုန်လှုပ်
၍၊ သင်ကွယ်ပျောက် သော့ကြောင့် ပင်လယ်၌
ရှိသော ကျွန်း မှားတို့သည် ထိတ်လန့် ကြလိမ့်
၁၉ မည်။-အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊
လူမနေသောမြို့ကဲ့သို့ငါသည်သင့်ကိုဆိတ်ညံစေ
လျက်၊ ပင်လယ်ကို သင့်အပေါ်သို့ ဆောင်ခဲ့၍၊
လှိုင်းတံပိုးတို့သည်သင့်ကိုလွှမ်းမိုးသောအခါ၊-
၂၀ ရှေးလူဟောင်းတို့ နေရာ မြေတွင်း ထဲသို့ ဆင်း
သောသူတို့နှင့်အတူသင့်ကိုငါနှိမ့်ချ၍၊သင်၌လူ
မနေစေခြင်းငှါ မြေတွင်းထဲသို့ ဆင်းသော သူတို့
နှင့် အတူ၊ ရှေးကာလမှစ၍ ဆိတ် ညံရာ အရပ်၊
မြေအောက်အရပ်တို့၌ ငါချထားမည်။ ထိုအခါ
အသက်ရှင် သောသူတို့၏နေရာ၌ ငဘုန်း ကိုငါ
၂၁ ထွန်းမည်။- သင်မူကား၊ကြောက်မက်ဖွယ်သော
အရာဖြစ်၍၊ နောက်တဖန်အဆယ်သူမျှရှာ၍ မ
တွေ့နိုင် အောင်၊ ပျောက်ကုန်ရာသို့ ရောက်လိမ့်
မည်ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။

၂၇

၁ တဖန် ထာဝရ ဘုရား၏ နှုတ်ကပတ် တော်
၂ သည်ငါ့ဆီသို့ ရောက်လာ၍၊- အချင်းလူသား၊တု
ရုမြို့ အတွက် မြည်တမ်း ခြင်း ကို ပြု၍၊ တုရု မြို့
၃ အား ဆင့်ဆိုရမည်မှာ၊- အိုပင်လယ်ဝ၌ တည်
သောမြို့၊များစွာသောကျွန်းသူကျွန်းသားတို့အ
ဖို့ကုန်သွယ်တတ်သောမြို့၊သင့်ကိုအရှင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊အိုတုရုမြို့၊သင်က၊
ငါ၏ တင့်တယ် ခြင်း စုံ လင် ပြီဟု ဆို တတ်၏။-
၄ သင်၏ နယ်ပါးတို့သည်ပင်လယ်ထဲမှာရှိ၏။ သင်၏
ဗိသုကာတို့သည်သင့်ကို စုံလင်စွာတင့်တယ်
၅ စေခြင်းငှါ ပြုကြပြီ။- သင်၏ပျဉ်ပြား ရှိသမျှတို့
ကိုစေနိရထင်းရှူးသစ်သားဖြင့်လုပ်၍၊ရွက်တိုင်
၆ တို့လေဗနွန်အာရဇ်ပင်တို့ကိုယူကြပြီ။- ဗာရှန်
သပိတ်သစ် သား ဖြင့် တက် တို့ ကို ၎င်း၊ ခိတ္တိမ်
ကျွန်းတို့မှယူခဲ့၍ ဆင်စွယ် နှင့် စီချယ်သောတာ
၇ ရှုရသစ်သားဖြင့်ကန့်တို့ကို၎င်းလုပ်ကြပြီ။- အဲ
ဂုတ္တု ပြည်၌ ချယ်လှယ်သော ပိတ်ချော ရွက်တို့
ကိုဖြန့်၍၊ ဧလိရှ ကျွန်းတို့မှ ယူခဲ့သော အထည်
ပြာ၊ အထည်မောင်း ဖြင့် လုပ် သော မှုတ် နှာ
၈ ကြက်နှင့် ပြည့်စုံ၏။- ဇိဒုန်မြို့သား၊ အာဝဒ်မြို့
သားတို့သည် သင်္ဘောသားဖြစ်၍၊ တုရုပညာရှိ
၉ တို့သည် လမ်းပြမာလိန်ဖြစ်ကြ၏။- ဂေဗလလူ
ကြီး၊ ပညာရှိတို့သည်သင့်ကိုပြုပြင်လျက်လိုက်
ကြ၏။ ပင်လယ်ကူးတတ်သော သင်္ဘော ရှိသမျှ၊
သင်္ဘော သားတို့နှင့်တကွ သင်နှင့် ဖောက် ကား
၁၀ ရောင်းဝယ်ခြင်းငှါပါကြ၏။-ပေရသိလူ၊လုဒလူ၊
ဖုတလူတို့သည် သင်၏ တပ်သား၊ စစ်သူရဲ လုပ်
ကြ၏။ ဒိုင်း၊လွှား၊သံခမောက်လုံးတို့ ကိုဗျှင်ဆင်
၍၊ သင်၏ဂုဏ် အသရေကို ထင်ရှားစေကြ၏။-
၁၁ အာဝဒ်အမျိုးသားတို့သည်သင်၏ တပ်သားတို့
နှင့်တကွ မြို့ ရိုးပတ်လည်၌ စီးကြ၏။ ဂမ္မဒိမ်လူ
တို့သည်ပြအိုးတို့ကိုစောင့်၍၊ မြို့ရိုးပတ်လည်၌
မြှားတောင့် တို့ကို ဗျှင်ဆင် သဖြင့်၊ သင် ၏ တင့်
၁၂ တယ်ခြင်းကို စုံလင်စေကြ၏။- သင်၌ကုန်သွယ်
ရန်ဥစ္စာများသောကြောင့်၊ တာရှုမြို့သည် ငွေ၊
သံ၊သံဖြူ၊ခဲတို့ကိုသင့်ပိုင်းသို့ယူခဲ့၍သင်နှင့်ကုန်
၁၃ သွယ်ခြင်းကိုပြုလေ၏။- ယာဝန်မြို့၊ တုဗလမြို့၊
မေရှက်မြို့တို့သည် သင်နှင့်ကုန်သွယ်၍၊လူကျွန်
တို့နှင့် ကြေးနီဖလားတို့ကိုသင့်ဈေး၌ ရောင်းကြ
၁၄ ၏။- တောဂါမအမျိုးသားတို့သည်မြင်း၊ မြင်းစီး
၁၅ သူ၊ လားတို့ကိုသင့်ပိုင်း၌သွင်းကြ၏။- ဒေဒန်မြို့
သား တို့သည် လည်း သင်နှင့်ကုန်သွယ် ကြ၏။
များစွာ သော တကျွန်း တနိုင်ငံ အရပ် သား တို့
သည် သင်လုပ်သောဥစ္စာကိုဝယ်၍၊ဦးချို၊ ဆင်
၁၆ စွယ်၊ သစ်သားနက်ကိုပြန်ပေးကြ၏။-သင်လုပ်
သောဥစ္စာများသောကြောင့်ရှုရိပြည်သည်သင်
နှင့် ကုန် သွယ်၍၊ နပက် ကျောက်၊ ပြာသော အ
ထည်၊ချယ်လှယ်သောအဝတ်၊ပိတ်ချောသန္တာ၊
၁၇ ကျောက် နီတို့ကို သင့်ပိုင်း၌ သွင်း ကြ၏။- ယုဒ
ပြည် နှင့် ဣသရေလ ပြည် သည် သင် နှင့် ကုန်
သွယ်၍၊ ဂျုံစပါး၊ မုရန်စေး၊ ပနက်စေး၊ ဗာလစံ
စေး၊ဆီ၊ ပျားရည်တို့ကိုသင့်ဈေး၌ သွင်းကြ၏။-
၁၈ ဒမာသက် မြို့ သည် သင် လုပ် သော ဥစ္စာ များ၊
စည်း စိမ် များ ပြား သော့ကြောင့်၊ ဟေလဗုန်
စပျစ်ရည်၊ ဖြူသော သိုးမွေး ကို ဖလှယ် လျက်
၁၉ ဖောက်ကားတတ်၏။-ဝေဒန်မြို့နှင့်ယာဝန်ပြည်
ဥဇာလ မြို့ သည် လည်း သံ ပြောင် ကို သင့်ပိုင်း
သို့ယူခဲ့၍၊သင့်ဈေး၌သစ်ကြံပိုးနှင့်ကြံထည်းရှိ
၂၀ ၏။- ဒေဒန် မြို့သည် မြင်း စီး သူရဲ သုံး စရာ ချော
သောအထည်မျိုးကိုရောင်း၍သင်နှင့်ကုန်သွယ်
၂၁ ၏။- အာရပ် ပြည်နှင့် ကေဒါမင်း အပေါင်း တို့
သည် သင်လုပ်သော ဥစ္စာကို ရခြင်းငှါ သိုးသ
ငယ်၊ သိုးထီး၊ ဆိတ် များတို့ နှင့် ဖလှယ်၍ ကုန်
၂၂ သွယ်ကြ၏။-ရှေဘကုန်သည်၊ ရာဂမကုန်သည်
တို့သည်သင်နှင့်ကုန်သွယ်၍အမြတ်ဆုံးသော

သာမျိုး၊ အဘိုးကြီးသော ကျောက်မျိုး၊ ရွှေမျိုး၊
၂၃ ကိုသင့်ပိုင်း၌လွှင်းကြ၏။- ခါရန်မြို့သား၊ ကနေ့
မြို့သား၊ ဧဒင်မြို့သား၊ ရှေဘကုန်သည်၊ အာရှုရိ
ကုန်သည်၊ ခိလမဒ်ကုန်သည်တို့ထည်း သင်နှင့်
၂၄ ကုန်သွယ်၍၊-ထူးဆန်းသောဥစ္စာ၊ ပြာသောအ
ထည်၊ ချယ်လှယ်သော အထည်၊ အဘိုးထိုက်
သော အဝတ်တန်ဆာ ပါ၍၊ ကြိုးနှင့် ပတ် ရစ်
သော အခေါ်ရစ် သစ်တာတို့ကို သင်၏ ကုန်ထဲသို့
၂၅ သွင်းကြ၏။- တာရှုသင်္ဘောတို့သည်သင်၏ကုန်
ကိုဆောင်လျက် သွားလာသဖြင့်၊ သင်သည်ပင်
လယ် အလယ်၌ ကြွယ်ဝ ၍ အလွန် ဘုန်းကြီး
လော၏။
၂၆ ယာခုမူကား၊ သင်၏တက်ခတ် သားတို့ သည်
သင့်ကို ကြီးစွာသောရေထဲသို့ ဆောင် သွား၍၊
အရှေ့လေသည်ထည်း ပင်လယ်အလယ်၌ ချိုး
၂၇ လေပြီ။- သင်သည် လဲ ပျက် သော အခါ သင် ၏
ဥစ္စာ၊ပိုင်း၊ကုန်၊ သင်္ဘောသား၊ ထမ်းပြမာလိန်၊
ပြုပြင်သူ၊ ကုန်သည်၊ စစ်သူရဲ အလုံးအရင်း ပါ
သမျှတို့သည် ပင်လယ်အထယ်၌ ကျရကြလိမ့်
၂၈ မည်။- သင်၏ ထမ်းပြမာလိန်တို့ အော်ဟစ် သံ
ကြောင့်၊ ပတ်ဝန်းကျင်အရပ်တို့သည်လှုပ်ရှား
၂၉ ကြလိမ့်မည်။- တက်ခတ်သော သူအပေါင်းတို့
သည် သင်္ဘောမှဆင်း၍၊ သင်္ဘော သားမှုား နှင့်
ပင်လယ်ထမ်းပြမာလိန်အပေါင်းတို့သည်ကုန်း
၃၀ ပေါ်မှာ ရပ်လျက်၊- သင့်အဖို့အော်ဟစ်၍ ပြင်း
စွာငိုကြွေးကြလိမ့်မည်။ မြေမှုန့်ကိုမိမိတို့ ခေါင်း
၃၁ ပေါ်မှာပြစ်တင်၍ပြာ၌လူးကြလိမ့်မည်။-ဆံပင်
ကို ထည်းဖြတ် ၍ လျှော် တေ အ ဝတ် ကို ဝတ်
စည်း လျက်၊ ညှိုးငယ် သော စိတ်နှင့် သင့် အဖို့
၃၂ ပြင်းစွာ ငိုကြွေး မြည်တမ်း ရသည် ကား။- ပင်
လယ်အလယ်၌ ဆုံးသော မြို့တည်းဟူသော တု
၃၃ ရုမြို့နှင့် အဘယ်မြို့တူ သနည်း။- သင်၏ဥစ္စာတို့
သည်ပင်လယ်လမ်းဖြင့် ထွက်သွားသောအခါ၊
လူမျိုး များတို့ကို ရောင့်ရဲစေ၍၊ များပြား သော
ဥစ္စာ၊ကုန်စထယ်တို့ဖြင့်လောကီရှင်ဘုရင်တို့ကို
၃၄ ကြွယ်ဝစေတတ်၏။- ယာခုမူကား၊သင်သည်ပင်
လယ်၌ရင်၊ သင့် ကုန် သွယ်ရန် ဥစ္စာတို့ သည်
လှိုင်းတံပိုး အထယ်၌ရင် ကျိုးပဲ့၍၊ သင်နှင့်ပါ
၃၅ သောသူအပေါင်း တို့သည်ဆုံးရှုံးကြပြီ။- ကျွန်း
သူကျွန်းသား အပေါင်းတို့သည်သင့်အမှုကြောင့်
မိန်းမောတွေဝေ၍၊ ရှင်ဘုရင်တို့သည် မျက်နှာ
၃၆ ပျက်သွေ့ [illegible] ထွင်းထကြ၏။- အမျိုး
မျိုး သောကုန်သည် တို့သည် သင့် အား ကဲ့ရဲ့ သံ
ကိုပြုကြ၏။ သင်သည် ကြောက် မက် ဖွယ် ဖြစ်
လေပြီတကား၊ နောက်တဖန်မပေါ်လာရပါတ
ကားဟု၊ ငိုကြွေးမြည် တမ်းကြလိမ့်မည်ဟု မိန့်
တော်မူ၏။

၂၈

၁ တဖန် ထာဝရဘုရား ၏ နှုတ်ကပတ် တော်
၂ သည် ငါ့ဆီသို့ ရောက်လာ၍၊- အချင်းလူသား၊
အရှင်ထာဝရ ဘုရား၏ အမိန့်တော်ကို တုရုရှင်
ဘုရင် အား ဆင့်ဆိုရမည်မှာ၊ သင်သည် ကိုယ်
ကို ဘု ရား သ ခင် ကဲ့ သို့ ထင် မှတ် သော် ထည်း
ဘုရားသခင် မဟုတ်၊ လူ သက်သက် ဖြစ်လျက်
နှင့် ငါသည်ဘုရားဖြစ်၏။ ပင်လယ် အလယ်၌
ဘုရား ပလ္လင်ပေါ်မှာ ငါထိုင် သည်ဟု၊ ဝါကြွား
၃ သောစိတ်နှင့်ဆိုသည်ဖြစ်၍၊- သင်သည်ဒံယေ
လထက် သာ၍ပညာရှိပါသည်တကား။ သင်မ
သိရအောင် သူတပါး ဝှက်ထား နိုင်သော အရာ
၄ တစုံတခုမျှမရှိ။- ကိုယ်ညာဏ်ပညာ အားဖြင့်
၅ ဥစ္စာရတတ်၏။ရွှေငွေကိုဆည်းဖူးပြီ။-ထူးဆန်း
သော ပညာ နှင့် ကုန်စထယ်များအားဖြင့် စည်း
စိမ်ကြီး၍၊ ထိုစည်းစိမ်ကြောင့် စိတ်ဝါကြွားပြီ။-
၆ သို့ဖြစ်၍၊ အရှင်ထာဝရဘုရားမိန့်တော်မူသည်
ကား၊ သင်သည်ကိုယ်ကိုဘုရားသခင်ကဲ့သို့ထင်
၇ မှတ်သောကြောင့်၊- ကြောက်မက်ဖွယ်သောတ
ကျွန်းတနိုင်ငံသားတို့ကိုသင်ရှိရာသို့ငါပို့ဆောင်
သဖြင့်၊ သူတို့သည်သင်၏ပညာဂုဏ်ကိုထားနှင့်
ခုတ်၍၊ သင်၏ တင့်တယ်ခြင်းအသရေကို ရှုတ်ချ
၈ ကြလိမ့်မည်။- သင့်ကို မြေတွင်းထဲသို့ နှိမ့်ချ၍၊
ပင်လယ်အထယ်၌ ဆုံးရှုံးသောသူကဲ့သို့ သင့်အ
၉ သက်သည်ဆုံးရှုံးရလိမ့်မည်။-သင့်အသက်ကို
သတ်သောသူတို့လက်တွင်၊ သင်သည်ဘုရားသ
ခင်မဟုတ်၊လူသက်သက်ဖြစ်လျက်နှင့်၊ငါသည်
ဘုရားဖြစ်သည်ဟု၊သင့်အသက်ကို သတ်သော
၁၀ သူတို့ရှေ့မှာ အမှန်ပြောလိမ့်မည်လော။- အရေ
ဖျားလှီးခြင်းမခံသောလူသေသကဲ့သို့၊သင်သည်
တကျွန်းတနိုင်ငံသားတို့လက်ဖြင့်သေရမည်။ငါ
ပြောပြီဟုအရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၁ တဖန် ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
၁၂ သည်ငါ့ဆီသို့ရောက်လာ၍၊-အချင်းလူသား၊တု
ရုရှင်ဘုရင် အတွက်မြည်တမ်း သောစကား ကို
မြွက်၍၊ အရှင်ထာဝရဘုရား၏ အမိန့်တော်ကို
ဆင့်ဆိုရမည်မှာ၊ သင်သည် ထူးဆန်း သောတံ

ဆိပ် ခြင်း၏၊ ပညာနှင့် ပြည့်စုံ၍တင့်တယ် ခြင်း
၁၃ အသရေထည်း၊ စုံလင်လျက်ရှိ၏။- ဧဒင်အရပ်၊
ဘုရားသခင်၏ဥယျာဉ်တော်၌နေပြီ။ သင်၏ခေါင်း
ပေါ်မှာ ကျောက် နီ၊ ဥသာ ဖရား မိန်၊ ဗျတ်ခွဲ၊
ကြောင်၊ နဂါးသွဲ၊ နီလာ၊ မြ၊ ပတ္တမြားအစရှိသော
ကျောက်မြတ်အမျိုးမျိုးတို့ကိုဆောင်းသေး၏။ ရွှေ
မြင့်ထုပ်သော ပတ်သာ၊ ပုလွေ တို့သည်ထည်း၊
သင်ဖွားသောနေ့၌ပင် သင့်အဖို့ပြင်ဆင်လျက်ရှိ
၁၄ ကြ၏။- သင်သည်ဖြန့်၍ဖုံးအုပ်သောခေရုဗိမ်
ဖြစ်လျက်၊ ငါအပ်နှံ၍ ဘုရား သခင်၏ သန့်ရှင်း
သောတောင်ပေါ်မှာနေရာကျ၍ မီးတောက်သော
၁၅ ကျောက်တို့တွင်သွားလာရ၏။- ဖွားသောနေ့မှ
စ၍သင့်အပြစ်ထင်ရှားသောနေ့တိုင်အောင်၊ ပြု
၁၆ ထေရာရာ၌ စုံလင်လျက်ရှိ၏။- သို့ရာတွင်၊ ကုန်
သွယ်ခြင်း များပြားသော အားဖြင့်၊ အဓမ္မ အမှု
တို့နှင့် ပြည့်စုံ၍ပြစ်မှားသော အပြစ်ရောက်သေ
ပြီ။ ထိုကြောင့်၊ ဆိုးယုတ်သောသူကဲ့သို့၊ သင့်ကို
ဘုရား သခင်၏တောင်တော် ပေါ်က ငါနှင်ထုတ်
မည်။ အို ဖုံးအုပ် သော ခေရုဗိမ်၊ မီး တောက်
သော ကျောက်တို့ အထဲက သင့်ကို ငါ ပယ်ရှင်း
၁၇ မည်။- သင်သည်ကိုယ်၌ တင့်တယ်ခြင်း အသ
ရေ ကြောင့်၊ ဝါကြွား သော စိတ် ရှိ လျက် ဂုဏ်
ထွန်းတောက်သောကြောင့်၊ သင်၏ ပညာသည်
ဖောက်ပြန်လျက် ရှိသေပြီ။ ငါသည်သင့်ကို မြေ
တိုင်အောင် နှိမ့်ချမည်။ ရှင်ဘုရင် တို့သည် သင့်
ကိုကြည့်ရှု၍ ဝမ်းမြောက်စေခြင်းငှါ၊ သူတို့ရှေ့
၁၈ မှာသင့်ကိုငါချထားမည်။-သင့်အပြစ်သည်များ
ပြား၍ ကုန်သွယ်ခြင်းအဓမ္မအားဖြင့်၊ သန့်ရှင်း
ရာဌာနတို့ကိုညစ်ညူးစေသောကြောင့်၊ သင့်ကို
မီးလောင်ကျွမ်းသောသင့်အလယ်၌ မီးကို ငါညှိမည်၊ သင့်ကို
မြင်သောသူ အပေါင်း တို့ရှေ့မှာ၊ သင်၏ ပြာကို
၁၉ မြေပေါ်သို့ ငါချထားမည်။- သင့်ကို သိသောလူ
အမျိုးမျိုး တို့သည် သင်၏ အမှုကြောင့် မိန်းမော
တွေဝေကြ လိမ့်မည်။ သင်သည် ကြောက် မက်
ဖွယ်ဖြစ်လိမ့်မည်။နောက်တဖန်မပေါ်ထာဝရထု
မိန့်တော်မူ၏။
၂၀ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂၁ ငါ့ဆီသို့ ရောက် လာ၍၊- အချင်း လူ သား၊ သင်
သည် ဇိဒုန် မြို့တဖက်၌ မျက်နှာ ထား၍ ပရော
ဖက် ပြုလျက်၊- အရှင် ထာဝရ ဘုရား ၏ အမိန့်
တော် ကို ဆင့်ဆိုရမည်မှာ၊ အိုဇိဒုန်မြို့ သင့်တ
ဘက်၌ ငါနေ၏။ သင့်အ လယ်၌ ဘုန်း တန်ခိုး

သည် ထင်ရှားလိမ့်မည်။ ထိုမြို့၌ငါသည် အပြစ်
ဒဏ်ပေး၍ရှိ သေခြင်းကိုခံရသော အခါ၊ ငါသည်
ထာဝရဘုရား ဖြစ် ကြောင်း ကို လူများ သိရကြ
၂၃ လိမ့်မည်။-ထင့်အပေါ်သို့ကာလနာဘေးကိုနှင်၊
သင်၏လမ်းတို့၌လာဘေးကိုငှင် ငါစေလွှတ်၍၊
ပတ်လည်၌ ထိုက်သောထားဖြင့် သူရဲ တို့သည်
သင့်အလယ်၌လဲ၍သေကြသောအခါ၊ ငါသည်
ထာဝရဘုရား ဖြစ် ကြောင်း ကို သိ ရ ကြ လိမ့်
၂၄ မည်။- ထိုအခါ ဣသရေလအမျိုး၏ပတ်လည်၌
နေ၍၊ မထီမဲ့မြင်ပြုသောသူတို့တွင်စူးတတ်သော
ဆူးပင်၊ နှောင့်ရှက်တတ်သော ခြောင့် တစုံတခု
မျှ မကျန် ကြွင်းရ။ ငါသည် ထာဝရ ဘုရား ဖြစ်
ကြောင်းကိုသိရကြလိမ့်မည်ဟုမိန့် တော်မူ၏။
၂၅ တဖန်အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ ဣသရေလ အမျိုး သားတို့သည် ကွဲပြား
လျက် နေရသော လူအမျိုးမျိုးထဲက ငါခေါ်၍ စု
ဝေးသောအခါ၊သူတို့အားဖြင့်လူမျိုးများရှေ့၌ငါ
သေခြင်းကို ငါခံ၍၊ ငကျွန် ယာကုပ်အား ငါအ
ရင်ပေးသောပြည်၌ သူတို့သည်နေကြလိမ့်မည်။-
၂၆ ထိုပြည်၌ မိုးရိပ်စရာ မရှိ၊ အိမ်ဆောက် ခြင်း၊
စပျစ် ဥယျာဉ်စိုက် ခြင်း အမှုကိုပြု၍ နေကြ လိမ့်
မည်။ သူတို့ ပတ်လည်၌နေ၍ မထီမဲ့မြင်ပြုသော
သူ အ ပေါင်း တို့ကို ငါ သည် အပြစ် ဒဏ် စီရင်
သောနောက်သူတို့သည်မိုးရိပ်စရာမရှိဘဲနေ၍၊
ငါသည်သူတို့၏ ဘုရားသခင်ထာဝရဘုရားဖြစ်
ကြောင်းကိုသိရကြလိမ့်မည်ဟုမိန့်တော်မူ၏။

၂၉

၁ သက္ကရာဇ ဆယ် နှစ်၊ ဒ သ မ လ တ ဆယ် တ
ရက်နေ့တွင်၊ထာဝရဘုရား၏နှုတ်ကပတ်တော်
၂ သည် ငါ့ဆီသို့ရောက်လာ၍၊- အချင်းလူသား၊
သင်သည် အဲဂုတ္တုရှင်ဘုရင်ဖာရောမင်းတဘက်
၌မျက်နှာထား၍၊ သူနှင့် အဲဂုတ္တုပြည် တပြည်
၃ လုံးတဘက်၌ ပရောဖက်ပြုလျက်၊- အရှင် ထာ
ဝရဘုရား၏အမိန့်တော်ကို ဆင့်ဆိုရမည်မှာ၊ အို
အဲဂုတ္တုရှင်ဘုရင်ဖာရောမင်း၊ ကိုယ်မြစ်များအ
လယ်၌နေလျက်၊ မြစ်ကိုငါပိုင်၏။ ငါ့အဖို့ငါဖန်
ဆင်းပြီဟုဆိုတတ်သောမိကျောင်းကြီး၊ သင့်တ
၄ ဘက်၌ ငါနေ၏။- သင့်ပါးရိုးကို သံချိတ်နှင့်ချိတ်
၍၊ သင့်မြစ်၌နေသောငါးတို့ကို သင့်အကြေးတို့
၌ ငါကပ်စေမည်။ သင့် မြစ်များ အလယ် ထဲက
သင့်ကိုငါနှုတ်၍၊ မြစ်၌ရှိသမျှသော ငါးတို့သည်
၅ သင့်အကြေး တို့၌ ကပ်ငြိလိမ့်မည်။- သင်နှင့်

သင့်မြစ်၌ ရှိသမျှသောငါးတို့ကို တော၌ ငါပစ်
ထားမည်။ လွင်ပြင်၌ကျ၍ နောက်တဖန် စုဝေး
ခြင်းကိုမပြုရ၊ တောသားရဲ ငှက်၊ မိုဃ်းကောင်း
၆ ကင်ငှက်များ စားစရာဘို့သင့်ကိုငါအပ်၏။- ငါ
သည် ထာဝရဘုရား ဖြစ်ကြောင်းကို အဲဂုတ္တု
ပြည်သားအပေါင်းတို့သည် သိရကြလိမ့်မည်။
အကြောင်းမူကား၊ သင်သည် ဣသရေလအမျိုး
၇ ၌ ကျူ တောင်ဝေး ဖြစ်သေပြီ။- သင့်ကို လက်
နှင့် ကိုင်သောအခါ သင်သည် အကိုင်မခံ၊ လူ
တို့ ပခုံးသားကို ဖြတ်သေ၏။ သင်နှင့် ကိုယ်ကို
ထောက်သောအခါ သင်သည် ကျိုး၍ သူတို့ခါး
ကို နာစေ၏။
၈ ထိုကြောင့်၊ အရှင်ထာဝရ ဘုရား မိန့်တော်မူ
သည်ကား၊ ငါသည် သင့်အပေါ်သို့ ထားကို
ဆောင်ခဲ့၍ လူနှင့်တိရစ္ဆာန်တို့ကို ပယ်ဖြတ်သ
၉ ဖြင့်၊- အဲဂုတ္တုပြည် သည် လူဆိတ်ညံလျက်၊
ပျက်စီးလျက် ရှိသောအခါ၊ ငါ သည် ထာဝရ
ဘုရား ဖြစ်ကြောင်းကို သိရလိမ့်မည်။ သင်က၊
မြစ်ကို ငါပိုင်၏။ ငါဖန်ဆင်းပြီဟု ဆိုမိသော
၁၀ ကြောင့်၊-သင်နှင့်သင့်မြစ်တဘက်၌ငါနေ၏။ အဲ
ဂုတ္တု ပြည်ကို မိဂဒေါလမှစ၍ သုဝေနမြို့ တိုင်
အောင်၎င်း၊ ဆဲသယောပိ ပြည်စွန်း တိုင်အောင်
၁၁ ၎င်း၊ ထားနှင့်ဖျက်ဆီး၍ ဆိတ်ညံစေမည်။- အ
နှစ်လေးဆယ်ပတ်လုံးလူရှောက်၍မသွားရ။ တိ
ရစ္ဆာန်သည်ရှောက်၍မသွားရ။ အဘယ်သူမျှ
၁၂ မနေရ၊-ပျက်စီးသောပြည်တို့တွင်အဲဂုတ္တုပြည်
ကို ငါဖျက်ဆီးမည်။ လူဆိတ်ညံသောမြို့တို့တွင်
အနှစ် လေးဆယ်ပတ်လုံး အဲဂုတ္တု မြို့တို့ သည်
ပျက်စီးလျက် ရှိကြလိမ့်မည်။ အဲဂုတ္တုလူတို့ကို
အတိုင်းတိုင်း၊ အပြည်ပြည်တို့သို့ ငါကွဲပြားပြန့်
လွင့်စေမည်။
၁၃ ထိုရာတွင်၊ အရှင်ထာဝရဘုရားမိန့်တော်မူ
သည်ကား၊ အနှစ်လေးဆယ်စေ့သောအခါ၊ ကွဲ
ပြားလျက် နေရသော လူမျိုးတို့မှ အဲဂုတ္တုလူတို့
၁၄ ကိုငါခေါ်၍ စုဝေးစေမည်။-သိမ်းသွားခြင်းကိုခံ
ရသောအဲဂုတ္တုလူတို့ကို ငါတဖန်ဆောင်ခဲ့၍ သူ
တို့နေရင်းပြည်၊ ပါသရုပြည်သို့ပြန်စေမည်။ ထို
၁၅ ပြည်၌ ယုတ်သောနိုင်ငံဖြစ်ရလိမ့်မည်။- တပါး
သောလူမျိုးတို့ကို နောက်တဖန် အစိုးမရ၊ နိုင်ငံ
တကာတို့တွင် အယုတ်ဆုံး ဖြစ်ရလိမ့်မည်။ တ
ပါးသောလူမျိုးတို့ကို နောက်တဖန် အစိုးမရစေ
၁၆ ခြင်းငှါ ငါရှုတ်ချမည်။- ဣသရေလအမျိုးသား

တို့သည်ထိုပြည်သားတို့ကို မျှော်ထင့်၍၊ မိမိတို့
အပြစ်ကိုငါအောက်မေ့စေသဖြင့်၊ နောက်တဖန်
ထိုပြည်သည် သူတို့ ခိုလှုံရာမဖြစ်ရ။ ငါသည်
ထာဝရဘုရားဖြစ်ကြောင်းကို သိရကြလိမ့်မည်
ဟုမိန့်တော်မူ၏။
၁၇ သက္ကရာဇ် နှစ်ဆယ်ခုနစ်နှစ်၊ ပဌမလ တရက်
နေ့တွင်၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
၁၈ ငါ့ဆီသို့ရောက်လာ၍၊-အချင်းလူသား၊ ဗာဗုလုန်
ရှင်ဘုရင် နေဗုခဒ်နေဇာသည်၊ သူ၏စစ်သူရဲတို့ကို
တုရုမြို့ တဘက်၌ ကြီးစွာသော အမှုကို ဆောင်
ရွက်စေပြီ၊ စစ်သူရဲတို့ ခေါင်းတုံးပြီ၊ ပခုံးသည်း
ပွန်းပြီ၊ သို့ရာတွင်၊ ရှင်ဘုရင်နှင့်စစ်သူရဲတို့သည်
တုရုမြို့တဘက်၌အမှုဆောင်ရွက်ခကို ထိုမြို့တွင်
၁၉ မခံရကြ။- ထိုကြောင့်၊ အရှင် ထာဝရဘုရားမိန့်
တော်မူသည်ကား၊ အဲဂုတ္တုပြည်ကို ဗာဗုလုန်
ရှင်ဘုရင် နေဗုခဒ်နေဇာအား ငါပေးမည်။ ထို
မင်းသည်ပြည်သားအလုံးအရင်းကို၎င်း၊ ထိ
ရဥစ္စာအမျိုးမျိုးကို၎င်းသိမ်း၍လုယူပြီးလျှင်၊ မိမိစစ်
၂၀ သူရဲတို့အခကိုပေးလိမ့်မည်။-ငါ့အမှုကိုဆောင်
ရွက်သောကြောင့်၊ တုရုမြို့တဘက်၌အမှုဆောင်
၂၁ ရွက်ခ ထို့ အဲဂုတ္တုပြည်ကိုငါပေးပြီ။-ထိုကာလ
၌ ဣသရေလအမျိုး၏ဦးချိုကိုငါပေါက်စေ၍၊ သူတို့
အထဲမှာသင်တော့ပြောရသောအခွင့်ကို ငါပေး
မည်။ ငါသည်ထာဝရဘုရား ဖြစ်ကြောင်းကိုသူ
တို့သိရကြလိမ့်မည်ဟုမိန့်တော်မူ၏။

၃၀

၁ တဖန် ထာဝရ ဘုရား၏ နှုတ်ကပတ်တော်
၂ သည်ငါ့ဆီသို့ရောက်လာ၍၊-အချင်းလူသား၊ သင်
သည်ပရောဖက်ပြုလျက်၊ အရှင်ထာဝရဘုရား၏
အမိန့်တော်ကို ဆင့်ဆိုရမည်မှာ၊ ရောက်ရသော
နေ့သည် အမင်္ဂလာ ရှိသည်ဟု အော်ဟစ်ကြ
၃ လော့။- ထိုနေ့နီးပြီ၊ ထာဝရဘုရား၏နေ့၊ မိုဃ်း
အုံ့သောနေ့၊ တပါးအမျိုးသားတို့မှိန်းရောက်သော
၄ အချိန်နီးပြီ။- ထားဘေးသည် အဲဂုတ္တုပြည်သို့
ရောက်သဖြင့်၊ သူရဲတို့သည်ထိ၍ သေကြသော
အခါ၊ ဆဲသယောပိပြည်သည် ပူပန်လိမ့်မည်။
အလုံးအရင်းကို ပယ်ရှား၍ မူလအမြစ်ကို ဖြို
၅ ဖျက်ကြလိမ့်မည်။- ဆဲသယောပိပြည်သား၊ ဖု
တပြည်သား၊ လုဒ်ပြည်သား၊ အမျိုးမစပ်သော
လူ ရှိသမျှ၊ ခုဗအမျိုးသား၊ မိဿဟာယဖွဲ့
သောပြည်သားတို့သည် အဲဂုတ္တုပြည်သားတို့
၆ နှင့်အတူ ထားဖြင့်ထိ၍ သေကြလိမ့်မည်။- အဲ

ဂုတ္တုပြည်ကို ထောက်မထောက်သူတို့သည် လဲ၍
သေကြသဖြင့်၊ ထိုဂုတ္တုအစွမ်းသတ္တိ၏ ဂုဏ်အ
သရေသည် ဆုံးလိမ့်မည်။ မိဂဒေါလမြို့မှစ၍ သု
ဧနေမြို့တိုင်အောင် ထိုဂုတ္တုပြည်သားတို့သည်
ထားဖြင့် လဲ၍ သေကြလိမ့်မည်ဟု၊ အရှင်ထာ
၇ ဝရဘုရားမိန့်တော်မူ၏။- ပျက်စီးသော ပြည်တို့
တွင်ပျက်စီးလျက် နေကြ၍၊ လူဆိတ်ညံ့သောမြို့
တို့တွင် ထိုဂုတ္တုမြို့တို့သည်ပါဝင်ကြလိမ့်မည်။-
၈ ငါသည် ထိုဂုတ္တုပြည်၌ မီးညှိ၍ ထိုပြည်ကိုမစ
သမျှသောသူတို့သည်ပျက်စီးကြသောအခါ၊ ငါ
သည် ထာဝရဘုရား ဖြစ်ကြောင်းကို သိရကြ
၉ လိမ့်မည်။- ထိုအခါ စိုးရိမ်ခြင်းမရှိသော ထိုသ
ယောပိပြည်သားတို့ကို ကြောက်စေခြင်းငှါ၊ ငါ
စေလွှတ်သောတမန်တို့သည်သင်္ဘောစီး၍သွား
ကြသဖြင့်၊ ထိုဂုတ္တုပြည်၏အချိန်၌ သူတို့သည်
ထည်း အလွန်ဆင်းရဲခြင်းသို့ ရောက်ရကြလိမ့်
မည်။ ထိုအချိန်လည်းနီးပြီဟု မိန့်တော်မူ၏။
၁၀ အရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
ဗာဗုလုန်ရှင်ဘုရင် နေဗုခဒ်နေဇာအားဖြင့် ထို
၁၁ ဂုတ္တုပြည်၏အလုံးအရင်းကိုငါဖြတ်မည်။- ထို
ရှင်ဘုရင်နှင့်တကွ သူ၏လူများ၊ ကြောက်မက်
ဘွယ်သော လူမျိုးများတို့သည် ထိုဂုတ္တုပြည်ကို
ဖျက်ဆီးခြင်းငှါလာ၍၊ ထားကိုင်လျက် တပြည်
၁၂ လုံးကိုသူရဲတို့နှင့်ပြည့်စေကြလိမ့်မည်။- မြစ်တို့
ကိုငါခန်းခြောက်စေ၍၊ အဓမ္မလူတို့အားပြည်
ကို ရောင်းလိုက်မည်။ တကျွန်းတနိုင်ငံ သားတို့
ထက်ဖြင့် ပြည်နှင့်တကွ ပြည်၌ ပါသမျှကို ငါ
၁၃ ဖျက်ဆီးမည်။ ငါထာဝရဘုရားပြောပြီ။- အရှင်
ထာဝရဘုရား မိန့်တော်မူသည် ကား၊ ရုပ်တုတို့
ကို ငါ ဖျက်ဆီး၍၊ နောဖပြည်၌ ဆင်းတုတို့ကို
ထည်း ပယ်ဖြတ်မည်။ နောက် တဖန် ထိုဂုတ္တု
မင်းမျိုးမရှိရ။ ထိုဂုတ္တုပြည်သည် ကြောက်ရွံ့
၁၄ မည်အကြောင်းကို ငါပြုမည်။- ပါသရုပြည်ကို
ငါဖျက်မည်။ ဇောနမြို့ကိုထည်း မီးရှို့မည်။ နော
၁၅ မြို့ကိုလည်း အပြစ်ဒဏ်စီရင်မည်။- ထိုဂုတ္တု
ပြည်၏ အစွမ်းသတ္တိဖြစ်သော သိန်မြို့ အပေါ်သို့
ငါသည်အမျက်ကိုသွန်းလောင်း၍၊ နောမြို့သား
၁၆ အလုံးအရင်းကိုပယ်ဖြတ်မည်။- ထိုဂုတ္တုပြည်
၌ မီးညှိ၍သိန်မြို့သည် တုန်လှုပ်ခြင်း၊ နောမြို့မိုး
သည်ပြိုပေါက်ခြင်း၊ နောသမြို့သည် နေ့အချိန်၌
၁၇ ပင် စစ်ထိုတ်ခြင်းကို ခံရလိမ့်မည်။- အာဝင်မြို့၊
ပိဗေသက်မြို့သားလုလင်တို့သည် ထားဖြင့်လဲ၍
သေကြသဖြင့်၊ မိန်းမတို့သည်သိမ်းသွားခြင်းကိုခံ
၁၈ ရကြလိမ့်မည်။- တာပနက်မြို့၌ ထိုဂုတ္တုထမ်းပိုး
ကိုငါချိုး၍၊ သူအစွမ်းသတ္တိ၏ဂုဏ်အသရေဆုံး
သောအခါ နေ့အချိန်၌ အထင်းကွယ်လိမ့်မည်။
မိုဃ်းတိမ်ဖုံး၍ မြို့သူမြို့သားတို့သည် သိမ်းသွားခြင်းကို ခံ
၁၉ ရကြလိမ့်မည်။- ထိုသို့ ဂုတ္တုပြည်၌ ငါသည်
အပြစ်ဒဏ်စီရင်၍၊ ထာဝရဘုရားဖြစ်ကြောင်း
ကိုသူတို့သိရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၂၀ သက္ကရာဇ်တဆယ်တနှစ်၊ ပဌမလ ခုနစ်ရက်
နေ့တွင်၊ ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂၁ ငါ့ထံသို့ရောက်လာ၍၊- အချင်းလူသား၊ ထိုဂုတ္တု
ရှင်ဘုရင် ဖာရောမင်း၏ လက်ရုံးကို ငါချိုးပြီ။
ဆေးကု၍မထုံးစီး ရ။ ထားကိုင်စေခြင်းငှါ ပတ်တီးနှင်
အားရှိစေခြင်းငှါ အဝတ်နှင့်မစည်းရ။- ဤအမှု
၂၂ ၌အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ငါ
သည်ထိုဂုတ္တုရှင်ဘုရင်ဖာရောမင်းတဘက်၌နေ
သဖြင့်၊ သူ၏ လက်ရုံး တည်းဟူသော၊ ခိုင်မာ
သောလက်ရုံးနှင့် အရင်ချိုးသောလက်ရုံးကိုငါ
၂၃ ချိုး၍ ထားကို သူ့လက်မှကျစေမည်။- ထိုဂုတ္တု
လူတို့ကို အတိုင်းတိုင်း အပြည်ပြည် တို့တွင် ကွဲ
၂၄ ပြားပြန့်လွင့်စေမည်။- ဗာဗုလုန်ရှင်ဘုရင်ကိုငါ
ခိုင်မာစေ၍၊ ငါ့ထားကို သူ့လက်၌အပ်မည်။ ဖာ
ရောမင်း၏လက်ရုံးတို့ကိုငါချိုးသဖြင့်၊ သူသည်
အသေသတ် ခြင်းကို ခံရသော သူကဲ့သို့ ထိုသ
ကဲ့သို့၊ ဗာဗုလုန် ရှင်ဘုရင် ရှေ့မှာ ညည်းတွားရ
၂၅ လိမ့်မည်။- ဗာဗုလုန်ရှင်ဘုရင်၏ လက်ရုံးတို့ကို
ငါခိုင်မာစေမည်။ ဖာရောဘုရင်၏လက်ရုံးကား
အောက်သို့ကျလိမ့်မည်။ ငါ့ထားကိုဗာဗုလုန်ရှင်
ဘုရင်လက်၌ငါအပ်၍၊ သူသည်ထိုဂုတ္တုပြည်
ကိုထိုထားနှင့်ခုတ်သောအခါ၊ ငါသည်ထာဝရ
ဘုရားဖြစ်ကြောင်းကို သူတို့သိရကြလိမ့်မည်။-
၂၆ ထိုသို့ ထိုဂုတ္တုလူတို့ကို အတိုင်းတိုင်း အပြည်
ပြည်တို့၌ ငါကွဲပြား ပြန့်လွင့်စေမည်။ ငါသည်
ထာဝရ ဘုရား ဖြစ်ကြောင်းကို သူတို့ သိရကြ
လိမ့်မည်ဟုမိန့်တော်မူ၏။

၃၁

၁ သက္ကရာဇ်တဆယ်တနှစ်၊ တတိယလ တရက်
နေ့တွင်၊ ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၂ ငါ့ထံ သို့ ရောက် လာ၍၊- အချင်း လူ သား၊ သင်
သည် ထိုဂုတ္တုရှင်ဘုရင်ဖာရောမင်းနှင့် သူ၏အ
လုံးအရင်းအားပြောရမည်မှာ၊ သင်သည်
ဘုန်းတန်ခိုးကြီး၍ အဘယ်သူနှင့်တူသနည်း။-

၃ အာရှုရိလူသည် အဆင်းလှ၍ ဖွံ့ဖြိုးသောအ
ကိုင်း၊ မြင့်သောအရပ်၊ ထူထပ်သော အခက်အ
လက်တို့နှင့်ပြည့်စုံသောထိပ်ဖျားရှိသောလေဗ
၄ နုန် အာရဇ်ပင် ဖြစ်၏။- မြစ်ရေ၏ ကျေးဇူး
ကြောင့်ကြီးမားခြင်း၊ နက်နဲသောရေ၏ကျေးဇူး
ကြောင့်အရပ်မြင့်ခြင်းရှိ၏။သူစိုက်ရာအရပ်ရပ်
တို့၌ ရေစီး၍၊ ခပ်သိမ်းသော တောပင် ရှိရာသို့
၅ မြစ်ရေသည် နှံ့ပြားလေ၏။- ထိုသို့သော အား
ဖြင့်တောသစ်ပင်တကာတို့ထက် အရပ်မြင့်လေ
၏။ထိုးပွားသောအခါ ရေများ သောကြောင့် အ
ကိုင်းအခက်များပြား၍၊ အလက်တို့သည် ရှည်
၆ လျားကြ၏။- မိုဃ်းကောင်းကင် ငှက်အပေါင်း
တို့သည် အကိုင်းအခက်တို့၌ အသိုက်လုပ်ကြ
၏။ တောတိရိစ္ဆာန် အပေါင်း တို့သည် အကိုင်း
ခက်တို့ အောက်၌ သား ဖွား ကြ ၏။ ထိုအပင်၏
အရိပ်၌ ကြီးမားသော လူမျိုးအပေါင်းတို့သည်
၇ နေကြ၏။- ထိုသို့ရေများသောအရပ်၌ အမြစ်စွဲ
သောကြောင့်၊ ကြီးမြင့်၍ အခက် အလက် ရှည်
လျားသ ဖြင့် လှ သော အဆင်း နှင့် ပြည့် စုံ၏။-
၈ ဘုရား သခင်၏ဥယျာဉ် တော်၌ အာရဇ် ပင်တို့
သည်ထို အပင်ကို မကွယ်နိုင်။ ထင်းရှူးပင်နှင့်
အာရရုန် ပင်တို့ သည် ထိုသို့ သော အကိုင်း အ
ခက် နှင့် မပြည့် စုံကြ။ ဘုရား သခင်၏ ဥယျာဉ်
တော်၌ သစ်ပင်တပင်မျှ ထိုအပင်ကဲ့သို့အဆင်း
၉ မလှ။- ဧဒင်အရပ်၊ဘုရားသခင်၏ ဥယျာဉ်တော်
၌ရှိသမျှသော သစ်ပင်တို့သည် ထိုအပင်ကိုငြူစူ
သည် တိုင်အောင်၊ အခက် အလက် များ ပြား
သောအားဖြင့်သူ၏အဆင်းကို ငါလှစေ၏။
၁၀ တဖန် အရှင်ထာဝရ ဘုရား မိန့်တော်မူသည်
ကား၊ ထိုအာရဇ်ပင်သည် အရပ်မြင့်လျက်၊ထူ
ထပ်သောအခက်အလက်တို့နှင့်ပြည့်စုံသောမိမိ
ထိပ်ဖျားကိုမြှီးမြှောက်လျက်၊ စိတ်ထည်းမြင့်၍
၁၁ ဝါကြွားလျက် ရှိသော ကြောင့်၊- လူမျိုးတို့တွင်
တန်ခိုးကြီး၍ သူကို ကြပ်တည်းစွာ စီရင်သော
သူ၏ လက်သို့ ငါအပ်လေပြီ။ သူပြုသော အဓမ္မ
၁၂ အမှုကြောင့် နှင်ထုတ်လေပြီ။- ကြောက်မက်
ဖွယ်သော တကျွန်းတနိုင်ငံသားတို့သည် သူကို
ခုတ်လှည်း၍ပြစ်ထားကြပြီ။အကိုင်းအခက်တို့
သည် တောင်ပေါ်နှင့် ချိုင့်ထဲမှာ ကျ၍ တပြည်
လုံး၊ မြစ် နားမှာ ကျိုးပဲ့ လျက် နေကြ၏။ မြေ ကြီး
သားအပေါင်းတို့သည် သုအရိပ်ထဲက ထွက်၍
၁၃ သူကို နှုတ်သွားကြ၏။- မိုဃ်း ကောင်းကင်ငှက်
နှင့် တော တိရိစ္ဆာန် အပေါင်း တို့ သည် ကျိုးပဲ့
သော အကိုင်းအခက်တို့အပေါ်မှာ နေရကြ၏။-
၁၄ အကြောင်းမူကား၊ ရေနားမှာရှိသမျှသော သစ်
ပင်တို့တွင်တပင်မျှ အရပ်မြင့်သောကြောင့်မဝါ
ကြွား။ ထူထပ်သော အခက်အလက်တို့တွင် မိမိ
ထိပ်ဖျားကိုမမြှီးမြှောက်မည်အကြောင်း၊ရေကို
သောက် သမျှ သော အပင် တပင်မျှ အရပ် မြင့်
လျက် မပြိုင်ဝံ့မည် အကြောင်းတည်း။ ထိုအပင်
အ ပေါင်း တို့သည် မြေတွင်း ထဲသို့ ဆင်း တတ်
သော လူ သား တို့နှင့်အတူ သေခြင်းသို့ရှင်၊ မြေ
အောက်အရပ်သို့ရှင် ရောက်စေခြင်းငှါ ငါ အပ်
၁၅ လေပြီ။- အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ သူ သည် မရဏာနိုင်ငံ ထဲသို့ ဆင်း သွား
သောနေ့၌နက်နဲသောအရပ်ကိုသုအဖို့မသာအ
ဝတ်နှင့်ငါဖုံးလွှမ်း၏၊ လှိုင်းတံပိုးတို့ကို ငါကန့်
ကွက်၍ ကြီးစွာသောရေကို ချုပ်ထား၏။ လေဗ
နုန်တောင်ကိုသုအဖို့မသာအဝတ်ကိုဝတ်စေ၍၊
တောသစ်ပင်အပေါင်းတို့သည်စိတ်ပျက်ကြ၏။-
၁၆ မြေတွင်းထဲသို့ ဆင်းသွားသော သူတို့နှင့်အတူ
သူကိုမရဏာနိုင်ငံထဲသို့ငါနှိမ့်ချသောအခါ၊နှိမ့်
ချသံအားဖြင့် လူအမျိုးမျိုးတို့ကို ငါတုန်လှုပ်စေ
၏။ ဧဒင်သစ်ပင်ရှိသမျှတို့နှင့်အကောင်းဆုံး၊ အ
မြတ်ဆုံး သော လေဗနုန် သစ်ပင် မှစ၍၊ ရေ ကို
သောက်သမျှသောသစ်ပင်တို့သည် မြေအောက်
၁၇ အရပ်တို့၌ သက်သာခြင်းသို့ ရောက်ကြ၏။- ထို
သူနှင့်တကွသူထက်ရုံးဖြစ်၍၊ လူမျိုးတို့တွင်သု
အရိပ်ကိုမှီသောသူတို့သည်ထားဖြင့်အသေခံရ
သောသူတို့နေရာ၊မရဏာနိုင်ငံထဲသို့လိုက်သွား
၁၈ ကြ၏။- သင်သည်ဘုန်းတန်ခိုးအာနုဘော်အား
ဖြင့် အဘယ် မည် သော ဧဒင် သစ်ပင်နှင့် တူသ
နည်း။ သင်သည် ဧဒင်သစ်ပင် တို့နှင့်အတူ မြေ
အောက်အရပ်သို့ နှိမ့်ချခြင်းကိုခံရမည်။ အရေ
ဖျားလှီးခြင်းကို မခံသောလူ၊ထားဖြင့် အသေခံ
ရသောသူတို့နှင့်အတူ လဲ၍နေရမည်။ ထိုသို့ဖာ
ရောဘုရင်နှင့် သုအလုံးအရင်း ရှိသမျှတို့သည်
ဖြစ်ရကြမည်ဟူ၊ အရှင်ထာဝရဘုရား မိန့်တော်
မူ၏။

၃၂

၁ သဗ္ဗရာဇ်တဆယ်နှစ်ခု၊ ဥါဒသမထ တရက်
နေ့တွင်၊ ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
၂ ငါ့ဆီသို့ ရောက် လာ၍၊- အချင်း လူသား၊ သင်
သည် အဲဂုတ္တု ရှင် ဘုရင် ဖာရော မင်း အတွက်

ပြည်တမ်းခြင်းကို ပြု၍ ပြောဆိုရမည်မှာ သင်
သည် လူမျိုးတို့တွင်ချင်သေ့ငယ်ကဲ့သို့ဖြစ်၏။ ဆိုင်
၌နေသော မိကျောင်းကဲ့သို့လည်းဖြစ်၍၊ မြစ်တို့
ကိုကူးသွားလျက်၊ခြေဖြင့်ရေကို လှုပ်ရှားလျက်
၃ မြစ်ရေကို နောက်စေ၏။– အရှင်ထာဝရဘုရား
မိန့်တော်မူသည်ကား၊ လူမျိုးများ စုဝေးလျက်၊
ငါ သည် ပိုက်ကွန်နှင့် သင့်ကို ဖုံးမိ၍၊ သူတို့
သည် ပိုက်ကွန် နှင့် တကွ သင့်ကိုဆွဲယူကြလိမ့်
၄ မည်။– ငါသည်သင့်ကိုကုန်းပေါ်မှာတင်၍လွင်
ပြင်၌ ပြစ်ထားမည်။ မိုဃ်းကောင်းကင်ငှက်အ
ပေါင်းတို့ကိုသင့်အပေါ်မှာနားစေမည်။မြေသား
၅ အပေါင်းတို့ကို ဝစွာတွေ့မည်။–သင့်အသားကို
တောင်တို့အပေါ်၌ ငါခင်းမည်။ ချိုင့်တို့ကိုသင့်
၆ ကိုယ်နှင့်ပြည့်စေမည်။–သင်မှ ယိုသောအသွေး
ဖြင့် မြေကို တောင်ထိပ်တိုင်အောင် စိုစေမည်။
မြစ်တို့ သည် သင့် အ သွေး နှင့် ပြည့် ကြ လိမ့်
၇ မည်။– သင့် ကို ငါ ဆုံး စေ သော အ ခါ မိုဃ်း
ကောင်းကင်ကို ငါဖုံးလွှမ်း၍ ကြယ်တို့ကိုမိုက်
စေမည်။ နေကိုမိုဃ်းတိမ်ဖုံးစေ၍ လသည်လည်း အ
၈ လင်းကိုမပေးရ။–သင့်အထက်၊ မိုဃ်းကောင်း
ကင်၌ ထွန်းလင်းသောအလင်းတိမ်အလုံးစုံတို့
ကို မိုက်စေ၍၊ သင့် ပြည်ကို မှောင်မိုက်နှင့် ဖုံး
၉ လွှမ်းမည်။–သင်မသိဘူးသောအတိုင်းတိုင်းအ
ပြည်ပြည် တို့တွင် သင်ပျက်စီးခြင်း အကြောင်း
ကိုငါကြားစေသောအခါ၊ လူမျိုးများတို့ကို စိတ်
၁၀ ပူပန်စေမည်။– အကယ်စင်စစ်သင့်အမှုကြောင့်
လူမျိုးများတို့ကို ငါမိန်းမောတွေဝေစေမည်။ ငါ
သည် ရှင်ဘုရင်တို့ရှေ့မှာထားနှင့်ရွယ်သောအ
ခါ၊ သူ တို့သည် သင့်အမှုကြောင့် အလွန်ထိတ်
လန့် ကြလိမ့်မည်။ သင်ဆုံးရှုံးသောနေ့၌ သူတို့
သည် အသီးအသီး မိမိတို့အသက်ကြောင့် ခဏ
ခဏ မိုးရိမ်တုန်လှုပ်ကြလိမ့်မည်ဟု၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူ၏။
၁၁ အရှင် ထာဝရ ဘုရား မိန့်တော်မူသည်ကား၊
ဗာဗုလုန် ရှင်ဘုရင် ၏ ထားသည် သင့်အပေါ်
၁၂ သို့ ရောက် လိမ့်မည်။– ခွန်အားကြီး သော သူ၊
ကြောက်မက်ဖွယ်သော လူမျိုး အပေါင်းတို့ဖြင့်
သင်၏အလုံးအရင်းကိုငါလဲစေမည်။သူတို့သည်
အဲဂုတ္တုမာနကို နှိမ့်ချ၍၊ ပြည်သား အလုံးအ
၁၃ ရင်း ရှိသမျှကို ဖျက်ဆီးကြလိမ့်မည်။– များစွာ
သော ရေ အနားမှာ ကျက် စား သ မျှ သော တိ
ရိစ္ဆာန်တို့ကိုလည်း ငါပယ်ရှင်းမည်။ နောက်တ
ဖန် လူ ခြေ နှင့် တိရိစ္ဆာန် ခြေ သည် ထိုရေကို မ
၁၄ နှောက် စေရ။– ထိုရေကို ငါကြည်စေ၍ မြစ်ရေ
သည် ဆီကဲ့သို့စီးစေမည်ဟု၊ အရှင်ထာဝရဘုရား
၁၅ မိန့်တော်မူ၏။–ငါသည်အဲဂုတ္တုပြည်၌ဥစ္စာရှိသ
မျှကိုကုန်စေခြင်းငှါ သုတ်သင်ပယ်ရှင်း၍၊ ပြည်
သူပြည်သားအပေါင်းတို့ကို ဒဏ်ခတ်သော အ
ခါ၊ ငါသည်ထာဝရဘုရားဖြစ်ကြောင်းကို သိရ
၁၆ ကြ လိမ့်မည်။– ဤနှုတ်ကား၊ အဲဂုတ္တု ပြည် အ
တွက် ပြု ရသော ပြည်တမ်းခြင်းတည်း။ အမျိုး
မျိုးသော သတို့သမီးတို့သည်လည်းပြည်တမ်း၍၊
အဲဂုတ္တုပြည်နှင့် ပြည်သား အလုံးအရင်း ရှိသ
မျှတို့အတွက်ပြည်တမ်းကြလိမ့်မည်ဟု၊ အရှင်
ထာဝရဘုရားမိန့်တော်မူ၏။
၁၇ သက္ကရာဇ် တဆယ် နှစ် ခု၊ ပဌမ လ တဆယ်
ငါး ရက်နေ့တွင်၊ ထာဝရ ဘုရား၏ နှုတ်ကပတ်
၁၈ တော်သည် ငါ့ဆီသို့ ရောက်လာ၍၊– အချင်း လူ
သား၊ အဲဂုတ္တုပြည်သားအလုံးအရင်းအတွက်
ပြည်တမ်းခြင်းကိုပြုလော့။ မြေတွင်းထဲသို့ဆင်း
သွားသောသူတို့နေရာမြေအောက်အရပ်သို့တိုင်
အောင်၊ ကျော်စောသောလူမျိုးသတို့သမီးတို့နှင့်
၁၉ တကွနှိမ့်ချလျက်မြွက်ဆိုရမည်မှာ၊– သင်သည်
သူတပါးထက်သာ၍လှသလော။အရေဖျားလှီး
ခြင်းကိုမခံသောလူတို့နှင့်အတူ ဆင်းသက်၍နေ
၂၀ ရာကျလော့။– ထား ဘေး၌ အပ် သည် ဖြစ်၍၊
ထားဖြင့် သေ သော သူတို့နှင့်အတူ လဲ၍ သေရ
သော့ကြောင့်၊ သူကိုယ်တိုင်မှ စ၍ သူ ၏ လူ အ
၂၁ လုံးအရင်းရှိသမျှတို့ကိုဆွဲကြလော့၊– ခွန်အား
အကြီးဆုံးသောသူရဲတို့သည် မရဏာနိုင်ငံထဲက
သူနှင့်သူ၏အခြံအရံ တို့ကို နှုတ် ဆက် ကြ လိမ့်
မည်။ သူတို့သည်လည်းဆင်းသွားကြပြီ။ ထား
နှင့်သေ၍၊ အရေဖျားလှီးခြင်းမခံသော အဖြစ်၌
၂၂ လဲနေလျက်ရှိကြ၏။– ထိုအရပ်၌ အာရှုရနှင့်သူ
၏လူအလုံးအရင်းအပေါင်းလည်းရှိကြ၏၊သူတို့
သည်ထားဖြင့်သေ၍ လဲနေလျက်၊ ပတ်လည်အ
၂၃ ရပ်ရပ်တို့၌ သူတို့ သင်းချိုင်းများ ရှိကြ၏။– ထို
သင်းချိုင်းတွင်းတို့သည် ဥမင်အတွင်းအနားမှာ
ရှိလျက်၊ မင်းသင်းချိုင်း၌ပတ်လည် ခြံရံလျက်
ရှိကြ၏။ အသက်ရှင်သောသူတို့၏နေရာ၌ သူတ
ပါး ကို ကြောက် စေ တတ် သော သူ ဖြစ် သော်
လည်း၊ ထိုသူရှိသမျှတို့သည်ထားဖြင့်သေ၍လဲ
၂၄ နေကြ၏။– ထိုအရပ်၌ဧလံနှင့်၊ သူ၏သင်းချိုင်း
ပတ်လည်၌ သူ၏ လူ အလုံး အရင်း ရှိ သမျှတို့

ာည်ထားဖြင့်သေ၍ လဲလျက်ရှိကြ၏။ အသက်
ရှင်သောသူတို့၏နေရာ၌သူတပါးကိုကြောက်စေ
တတ် သော် လည်း၊ အရေဖျားလှီးခြင်း ကို မ ခံ
သော လူဖြစ်၍ မြေအောက်အရပ်သို့ ဆင်းသွား
ရသဖြင့်၊ မြေတွင်းထဲသို့ ဆင်းသွားသောသူတို့
နှင့်အတူ၊အရှက်ကွဲလျက်သေသောသူတို့နှင့်အ
၂၅ တူနေရာကျကြ၏၊-မိမိအလုံးအရင်းနှင့် အိပ်၍
သူတို့သင်းချိုင်းတွင်းတို့သည်ပတ်လည်၌ ရှိကြ
၏။ထိုသူရှိသမျှတို့သည်အရေဖျားလှီးခြင်းကိုမ
ခံသောလူဖြစ်၍ထားဖြင့်သေကြ၏၊အသက်ရှင်
သော သူတို့၏နေရာ၌ သူတပါး ကို ကြောက် စေ
တတ် သော်လည်း၊ မြေတွင်း ထဲသို့ ဆင်း သွား
သော သူတို့ နှင့်အတူ အရှက် ကွဲ သ ဖြင့်၊ သေ
၂၆ သောသူတို့နှင့်အတူနေရာကျကြ၏။- ထိုအရပ်၌
မိမိ အလုံး အရင်း ရှိသမျှတို့ နှင့် အတူ မေ ရှက်
လည်းရှိ၏။ တုဗလလည်းရှိ၏။ သင်းချိုင်းတွင်း
တို့သည် ပတ်လည်၌ ရှိကြ၏။ အသက်ရှင်သော
သူ တို့၏ နေရာ၌ သူတပါးကို ကြောက် စေတတ်
သော်လည်း၊ထိုသူရှိသမျှတို့သည်အရေဖျားလှီး
ခြင်းကို မခံသောလူ ဖြစ်၍ထား ဖြင့် သေလျက်
၂၇ နေကြ၏။- သူတို့သည် ရှေး ကာလ၌ လဲ၍ သေ
သော၊အရေဖျားလှီးခြင်းကိုမခံသောလူကြီးတို့
နှင့်အတူအိပ်၍ နေရကြလိမ့်မည်မဟုတ်လော။
ထိုလူကြီးတို့သည် အသက်ရှင်သော သူတို့၏နေ
ရာ၌လူကြီးတို့ကိုကြောက်စေတတ်သော်လည်း၊
စစ်တိုက် ထက်နက်ပါလျက် မရဏာနိုင်ငံထဲသို့
ဆင်းသွား၍၊ မိမိထားကို မိမိခေါင်းအောက်မှာ
ထားလျက်၊ မိမိတို့ အရိုး ပေါ်မှာ မိမိတို့ အပြစ်
၂၈ တည်လျက် ရှိကြ၏။- သင်သည်လည်း၊ အရေ
ဖျားလှီးခြင်းကို မခံသော လူတို့ အလယ်၌ ကျိုး
ပျက်၍၊ ထားဖြင့် သေသော သူတို့ နှင့်အတူ လဲ
၂၉ လျက်နေရ လိမ့်မည်။- ထိုအရပ်၌ ဧဒုံလည်း ရှိ
၏။ ဧဒုံရှင်ဘုရင် နှင့် မှူးတော်မတ်တော်တို့သည်
မိမိတို့တန်ခိုးပါလျက်၊ ထားဖြင့်သေသောသူတို့
နှင့်အတူနေရာကျ၍၊ အရေဖျားလှီးခြင်းကို မခံ
သောလူ၊ မြေတွင်းထဲသို့ ဆင်းသွားသော သူတို့
၃၀ နှင့်အတူအိပ်ရကြ၏။-ထိုအရပ၌မြောက်ပြည်
မင်း၊ ဇိဒုန်မင်းအပေါင်းတို့သည် ရှိကြ၏။ ကိုယ်
တန်ခိုးကိုရှက်လျက်၊ထိတ်လန့်လျက်ယေသော
သူတို့နှင့်အတူ ဆင်းသွားကြပြီ။ ထားဖြင့်သေ
သော သူတို့နှင့်အတူ အရေဖျားလှီး ခြင်းကိုမခံ
သော လူဖြစ်၍အိပ်ကြ၏။ မြေတွင်းထဲသို့ ဆင်း
သွားသော သူတို့နှင့်အတူ အရှက် ကွဲ လျက် နေ
၃၁ ကြ၏။- ဖာရောဘုရင်သည်ထိုလူများတို့ကိုမြင်
၍၊ ထားဖြင့်သေသော မိမိလူအလုံးအရင်းရှိသ
မျှတို့ကြောင့် ပူပန်သော စိတ်လျှော့၍၊ ဖာရော
ဘုရင် နှင့်မိမိဗိုလ်ခြေအပေါင်းတို့သည်သက်သာ
ကြလိမ့်မည်ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ
၃၂ ၏။-အသက်ရှင်သောသူတို့၏နေရာ၌သူသည်သူ
တပါးတို့ကို ကြောက် စေသော အခွင့်ကို ငါပေး
သော်လည်း၊ ဖာရောဘုရင်နှင့်သူ၏လူအလုံးအ
ရင်းရှိသမျှတို့သည်ထားဖြင့်သေသောသူတို့နှင့်
အတူ၊ အရေဖျားလှီးခြင်းကို မခံသော လူတို့ အ
လယ်၌လဲ၍ နေကြလိမ့်မည်ဟု၊ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏။

၃၃

၁ တဖန် ထာဝရ ဘုရား၏ နှုတ်ကပတ် တော်
၂ သည် ငါ့ဆီသို့ ရောက် လာ၍၊- အချင်းလူသား၊
သင်၏ အမျိုး သား ချင်း တို့အား ဟော ပြော၍
ဆင့်ဆိုရမည်မှာ၊ ငါသည် တစုံတခုသောပြည်
သို့ ထားဘေး ရောက်စေသောအခါ၊ ပြည်သား
တို့ သည် ပြည်သား တယောက်ကို ယူ ၍ ကင်း
စောင့်ထားပြီးမှ၊- ထိုသူသည်ထားဘေးရောက်
သည်ကိုမြင်လျက် တံပိုးမှုတ်၍သတိ ပေးသော်
၄ လည်း၊- တစုံ တယောက် သောသူသည် တံပိုး
မှုတ်သံကိုကြားလျက်နှင့်အမှုမထား၊ထားဘေး
ရောက်၍ သူ၏ အသက် ဆုံး လျှင်၊ ထို သူ သည်
ကိုယ်အသက်ဆုံးသောအပြစ်ကို ကိုယ်တိုင်ခံရ
၅ မည်။-တံပိုးမှုတ်သံကိုကြား၍အမှုမထားသော
ကြောင့်၊ ကိုယ် အ သက် ဆုံးသော အ ပြစ် ကို
ကိုယ်တိုင် ခံရမည်။ အမှုထားသော သူ မူကား၊
၆ ကိုယ် အ သက်ကို ကယ် တင် လိမ့် မည်။- သို့မ
ဟုတ်၊ကင်းစောင့်ထားသောသူသည်ထားဘေး
ရောက်ကြောင်းကို မြင်လျက်တံပိုးမမှုတ်၊ ပြည်
သား တို့ အား သတိ မ ပေး သော ကြောင့် ထား
ဘေးရောက်၍တစုံတယောက်သောသူအသက်
ဆုံးလျှင်၊ထိုသူသည်မိမိအပြစ်ကြောင့်အသက်
ဆုံး သော် လည်း၊ သူ၏ အသက်ကို ကင်းစောင့်
၇ သောသူ၌ငါတောင်းမည်။-ထိုအတူ၊ အချင်းလူ
သား၊သင့်ကိုဣသရေလအမျိုး၌ ကင်းစောင့်စေ
ခြင်းငှါ ငါခန့်ထားသောကြောင့်၊သင်သည်ငါ
၏ နှုတ် ထွက် စကားကို နားခံ၍သူတို့ကို သတိ
၈ ပေးရမည်။-ငါသည်လူဆိုးအား၊ဆိုးလူဆိုး၊ အ
ကယ်စင်စစ် သေ သည် အသေ ခံ ရမည်ဟု ဆို

သောအခါ၊ ဆိုးသောသူကို သူ၏လမ်းမှ ထွဲစေ
ခြင်းငှါ သင် သည် သတိ မပေး လျှင်၊ ထိုလူဆိုး
သည် မိမိအပြစ်ကြောင့် အသက် ဆုံးလိမ့်မည်၊
သို့ရာတွင်၊ သူ၏ အသက်ကို သင်၌ ငါ တောင်း
၉ မည်။- သို့မဟုတ်၊ လူဆိုးကိုသူ၏ လမ်းမှထွဲစေ
ခြင်းငှါ၊ သင်သည် သတိ ပေး၍ သူ သည် မထွဲ
ဘဲနေလျှင်၊ မိမိအပြစ်ကြောင့် အသက်ဆုံးသော်
လည်း၊ သင်သည်ကိုယ်အသက်ကိုကယ်တင်ပြီ။
၁၀ သို့ဖြစ်၍၊ အချင်းလူသား၊ ဣသရေလ အမျိုး
သားတို့အား ဟော ပြောရမည်မှာ၊ ငါတို့သည်
ကိုယ် ပြုမိ သော ဒုစရိုက် အပြစ် ကို ခံရသဖြင့်
အားလျော့သည်ဖြစ်၍၊ အဘယ်သို့ အသက်ရှင်
၁၁ နိုင်ပါမည်နည်းဟုသင်တို့ဆိုကြသော်၊- အရှင်
ထာဝရဘုရား မိန့် တော် မူ သည် ကား၊ ငါ အ
သက်ရှင်သည်အတိုင်း။ ဆိုးသောသူသည်အသေ
ခံခြင်း အမှုကို ငါ နှစ် သက် သည် မဟုတ်။ ဆိုး
သော သူသည် မိမိ ဆိုးသော လမ်းမှ ထွဲ၍ အ
သက်ရှင်ခြင်း အမှုကိုသာ ငါနှစ်သက်၏။ ဣသ
ရေလအမျိုးသားတို့၊သင်တို့လိုက်သောလမ်း
ဆိုးမှထွဲကြလော့၊ထွဲကြလော့၊အဘယ်ကြောင့်
၁၂ အသေ ခံလို ကြသ နည်း။- သို့ဖြစ်၍၊ အချင်းလူ
သား၊သင်၏အမျိုးသားချင်းတို့အားဟောပြော
ရမည်မှာ၊ ဖြောင့်မတ်သောသူသည်ဖောက်ပြန်
လျှင်၊ အရင် ဖြောင့် မတ် ခြင်း အမှုသည် သူကို
ကယ်တင်ရမည်မဟုတ်။ ဆိုးသောသူသည်ဆိုး
သောအမှုကို ရှောင်လျှင်၊ အရင်ဆိုးသော အမှု
ကြောင့် ပျက်စီးခြင်းသို့ ရောက်ရမည် မဟုတ်။
ဖြောင့်မတ်သောသူသည်ပြစ်မှားသော နေ့၌ အ
၁၃ သက်ရှင်ရသောအခွင့်မရှိရ။- ဖြောင့်မတ်သော
သူသည် စင်စစ် အသက် ရှင်ရလိမ့်မည်ဟု ငါဆို
သော်လည်း၊ သူသည်မိမိဖြောင့်မတ်ခြင်းကိုကိုး
စား၍ဒုစရိုက်ကိုပြုမိလျှင်၊အရင်ဖြောင့်မတ်ခြင်း
အမှုတစုံတခုကို မျှ မ အောင်းမေ့ ရ။ ပြုမိသော
၁၄ ဒုစရိုက်ကြောင့်အသေခံရလိမ့်မည်။-တဖန်ဆိုး
သောသူအား သင်သည် စင်စစ် အသေခံရလိမ့်
မည်ဟု ငါ ဆိုသော်လည်း၊ ထိုသူသည် မိမိ ဒုစ
ရိုက်ကိုရှောင်၍၊ တရားသောအမှု၊ ဖြောင့်မတ်
၁၅ သော အမှုကို ပြုလျက်၊- ပေါင်ထားသော ဥစ္စာ
ကိုမသိုထား၊ လုယူသော ဥစ္စာကိုပြန်ပေးလျက်၊
အသက်ရှင်ရာ ပညတ်
တရား လမ်း သို့ လိုက် လျှင်၊ အသေမခံရဘဲ စင်
၁၆ စစ် အသက်ရှင်ရလိမ့်မည်။- ပြုမိသော ဒုစရိုက်
အပြစ်တစုံတခုကိုမျှ သူ၌မတင်၊ တရားသောအ
မှု၊ ဖြောင့်မတ်သောအမှုကို ပြုသောကြောင့် စင်
၁၇ စစ် အသက်ရှင် ရ လိမ့်မည်။- သို့သော်လည်း၊
သင်၏အမျိုးသားချင်းတို့က၊ထာဝရဘုရားစီရင်
ချက်မဖြောင့်ဟု ဆိုကြသည်ဖြစ်၍၊ သူတို့စီရင်
၁၈ ချက် မဖြောင့်ပါတကား။- ဖြောင့်မတ်သော သူ
သည်မိမိဖြောင့်မတ်ခြင်းကိုစွန့်၍ဒုစရိုက်ကိုပြုမိ
လျှင်၊ထိုဒုစရိုက် အပြစ် ကြောင့် အသေခံရလိမ့်
၁၉ မည်။-ဆိုးသောသူမူကား၊ မိမိ ဒုစရိုက်ကိုရှောင်
၍တရားသောအမှု၊ ဖြောင့်မတ်သောအမှုကိုပြု
မိလျှင်၊ ထိုအမှုကြောင့်အသက်ရှင်ရလိမ့်မည်။-
၂၀ သို့သော်လည်း၊ သင်တို့က၊ ထာဝရဘုရားစီရင်
ချက် မဖြောင့်ဟု ဆိုကြသည် တကား။ ဣသ
ရေလအမျိုးသားတို့၊ သင်တို့အသီးအသီးပြုကြ
သည်အတိုင်းငါစီရင်မည်ဟုမိန့်တော်မူ၏။
၂၁ ထိုမိန်းသွားရာသက္ကရာဇ်တဆယ်နှစ်ခုနှစ်သ
လ ငါး ရက် နေ့တွင်၊ ယေရု ရှလင် မြို့မှ ပြေး၍
လွတ်သော သူသည် ငါ့ထံသို့ ရောက်
လာ၍၊ မြို့ကိုလုပ်ကြံပြီဟု သိတင်းကြား ပြော
၂၂ ၏။-ထိုသူမရောက်မှီညမှာစ၍သူရောက်သော
နံနက် အချိန်တိုင် အောင်၊ ထာဝရ ဘုရားသည်
လက်တော်ကို ငါ့ အပေါ်၌ တင်၍ ငါ့နှုတ်ကို ဖွင့်
တော် မူသ ဖြင့်၊ ငါသည် စကား မပြောဘဲ နေ ရ
၂၃ သော အချိန် လွန်၍ ဟောပြော ရ၏။- ထိုအခါ
ထာဝရဘုရား၏ နှုတ်ကပတ် တော် သည် ငါ့ထံ
၂၄ သို့ ရောက် လာ ၍၊- အချင်း လူ သား၊ ပျက် စီး
သော ဣသရေလပြည်၌ နေသောသော သူတို့က၊
အာဗြဟံသည် လူတဦးတည်း ဖြစ်သော်လည်း၊
ဤပြည်ကိုအမွေခံရ၏၊ ငါတို့မူကား အများဖြစ်
ကြ၏၊ ငါတို့အမွေခံစရာဖို့ပေးတော်မူပြီဟု ဆို
ကြသော်၊- သင်သည်အရှင်ထာဝရဘုရား၏ အ
မိန့်တော်ကို ဆင့်ဆိုရမည်မှာ၊ သင်တို့သည် အ
သွေးနှင့်တကွ အမဲသားကို စားလျက်၊ ရုပ်တုတို့
ကို မျှော်လျက်၊ လူအသက်ကို သတ်
လျက်နှင့်ပင်၊ ဤ ပြည်ကို ပိုင်ရကြ မည်လော။-
၂၆ ထားကိုမှီလျက်၊စက်ဆုပ်ဖွယ်သောအမှုကို
ပြုလျက်၊ အိမ်နီးချင်းမယားကို ပြစ်မှားလျက်
နှင့်ပင်၊ဤပြည်ကိုပိုင်ရကြမည်လော။-တဖန်အ
ရှင်ထာဝရဘုရား၏အမိန့်တော်ကိုဆင့်ဆိုရမည်
မှာ၊ ငါအသက်ရှင်သည်အတိုင်း။ ပျက်စီးသော
အရပ်၌ နေသောသူတို့သည်ထားဖြင့်ထိ၍သေ
ရကြ လိမ့်မည်။ လွင်ပြင်၌ ရှိသော သူတို့ကို ငါ

သဉ်သားရဲ၌အပ်၍ကိုက်စားစေမည်။ ရဲတိုက်၊
ဥမင်၌ ရှိသောသူတို့သည် ကာလနာနှင့်သေရ
၂၈ ကြလိမ့်မည်။– တပြည်လုံးကို ငါသုတ်သင်ပယ်
ရှင်းသဖြင့်၊ သူအစွမ်းသတ္တိ၏ဂုဏ် အသရေကုန်
၍၊ အဘယ်သူမျှ မရှောက်မသွားရအောင်၊ ဣ
သရေလ တောင်တို့သည် လူ ဆိတ်ညံ လျက်ရှိရ
၂၉ ကြလိမ့်မည်။-ပြည်သားတို့သည်ပြုမိသောစက်
ဆုပ် ဖွယ်အမှုအလုံးစုံတို့ကြောင့်၊ထိုပြည်ကိုငါ
သုတ်သင်ပယ် ရှင်းသောအခါ၊ ငါသည် ထာဝရ
ဘုရားဖြစ်ကြောင်းကိုသူတို့သိရကြလိမ့်မည်။
၃၀ ထိုမှတပါး၊အချင်းလူသား၊သင်၏အမျိုးသား
ချင်းတို့က၊ငါတို့သွားကြကုန်အံ့။ ထာဝရဘုရား
သည် အဘယ်သို့ ဗျာဒိတ်ပေး တော်မူသည်ကို
ကြားကြကုန်အံ့ဟု၊ထရံနားနား၊အိမ်တံခါးနားမှာ
သင့်ကို ရည်မှတ်၍ တယောက်ကို တယောက်
၃၁ ပြောတတ်ကြ၏။– ငါ၏လူကဲ့သို့ သင့်ထံသို့ လာ
၍၊ ငါ၏လူကဲ့သို့ သင့်ရှေ့မှာ ထိုင်လျက်၊ သင်၏
စကားကို ကြားသော်လည်း နားမထောင်တဲ နေ
ကြ၏။ အလွန် ချစ်ဖွယ်သော ထက္ခဏာကို နှုတ်
နှင့် ပြသော်လည်း၊၊ စိတ်နှလုံး မူကား လောဘ
၃၂ ဥစ္စာကို စွဲလမ်းလျက်ရှိ၏။- သင်၏စကားသည်
ကောင်း စွန်စွာ တီး၍ သာ ယာ သော အသံ နှင့်
ပြည့် စုံသော သူဆိုသော၊ နှစ်သက် ဖွယ်သော
သီခြင်းကဲ့သို့ သူတို့၌ဖြစ်၍၊ သူတို့သည် ကြားရ
၃၃ သော်လည်းနားမထောင်တတ်ကြ။-သို့ရာတွင်၊
အမှုရောက်လိမ့်မည်။ အမှုရောက်သောအခါသူ
တို့တွင်ပရောဖက်ရှိသည်ကို သူတို့ သိရကြ
လိမ့်မည်ဟုမိန့်တော်မူ၏။

၃၄

၁ တဖန် ထာဝရ ဘုရား ၏ နှုတ်ကပတ် တော်
၂ သည် ငါ့ဆီသို့ ရောက်လာ ၍၊– အချင်းလူသား၊
သင်သည် ဣသရေလအမျိုးသိုးထိန်းတို့တဖက်
၌ ပရောဖက် ပြု၍ ဟော ပြော လျက်၊ သိုးထိန်း
တို့အား အရှင် ထာဝရဘုရား မိန့်တော် မူသော
စကားကိုဆင့်ဆိုရမည်မှာ၊ ကိုယ်ကို သာကျွေး
မွေးသော ဣသရေလအမျိုးသိုးထိန်းတို့သည်အ
မင်္ဂလာရှိကြ၏။သိုးထိန်းသည်သိုးတို့ကိုမကျွေး
၃ မွေးရသလော။– သင်တို့သည် သိုးနို့ကို စားကြ
၏။သိုးမွေးကိုဝတ်ကြ၏။ ဆူဖြိုးသောသိုးတို့ကို
လည်းသတ်ကြ၏။ သို့ရာတွင်၊သိုးတို့ကို မကျွေး
၄ မွေးပါတကား။– အားနည်း သော သိုးကို မမစ
ကြ၊ နာသောသိုးကို [illegible]မကုကြ၊ အရိုး ကျိုး
သောသိုးကိုအဝတ်နှင့်မစည်းကြ၊သူတပါးနှင်
သော သိုး ကို လိုက် ၍ မ ဆောင် ခဲ့ကြ၊ ပျောက်
သောသိုးကို မရှာကြ၊ အနိုင်အထက်ပြု၍ ကြမ်း
၅ တမ်းစွာ စီရင်ကြ ပြီ။– ထိန်းသော သူမရှိ သော
ကြောင့်သိုးတို့သည်ကွဲပြားကြ၏။ ကွဲပြားလျက်
နေသောအခါ ခပ်သိမ်း သော တော သားရဲ စား
၆ စရာဖြစ်ကြ၏။– ငါ့သိုးတို့သည်တောင်များ၊ မြင့်
သော ကုန်းများ အပေါ်မှာထဲ၍၊ မြေတပြင်လုံး
တွင်အရပ်ရပ်သို့ကွဲပြားပြန့်လွင့်လျက်နေ၍၊အ
၇ ဘယ်သူမျှ မလိုက်မရှာကြ။ – သို့ဖြစ်၍၊အချင်း
သိုးထိန်းတို့၊ထာဝရဘုရား၏အမိန့်တော်ကိုနား
၈ ထောင်ကြလော့။-အရှင်ထာဝရဘုရားမိန့်တော်
မူသည်ကား၊ ငါအသက်ရှင်သည်အတိုင်း၊သိုး
ထိန်းမရှိ၊ အဘယ်သိုးထိန်းမျှငါ့သိုးတို့ကိုမရှာ၊
သိုးထိန်းတို့သည် ငါ့သိုးတို့ကိုမကျွေးမွေး၊ ကိုယ်
ကိုသာကျွေးမွေးသဖြင့်၊ ငါ့သိုးတို့သည်လုယူရာ၊
ခပ်သိမ်းသော တောသားရဲ စားစရာ ဖြစ်သော
၉ ကြောင့်၊– အချင်းသိုးထိန်းတို့၊ ထာဝရဘုရား၏
၁၀ အမိန့်တော်ကိုနားထောင်ကြလော့။-အရှင်ထာ
ဝရဘုရား မိန့်တော် မူသည်ကား၊ ငါ သည် သိုး
ထိန်းတို့တဖက်၌ နေ၏။ ငါ့သိုးများကို သူတို့၌ငါ
တောင်း၍သိုးထိန်းအရာကိုနှုတ်မည်၊သိုးထိန်း
တို့သည်နောက်တဖန်ကိုယ်ကိုမကျွေးမွေးရကြ၊
ငါ့သိုးများကိုသူတို့ပစပ်မငါနှုတ်၍နောက်တဖန်
မကိုက်မစားရကြ။
၁၁ အရှင် ထာဝရဘုရား မိန့်တော် မူသည်ကား၊
ငါသည်ကိုယ်တိုင်လိုက်၍ငါ့သိုးတို့ကို ရှာမည်။-
၁၂ ကွဲပြားလျက် ရှိသော မိမိ သိုးတို့တွင် သိုးထိန်း
ရောက် သောအခါ ကြိုး စား၍ ရှာသကဲ့သို့၊ ငါ
သည်လည်းငါ့သိုးတို့ကိုကြိုးစား၍ရှာမည်။မိုဃ်း
အုံ့၍ မိုက်သောနေ့၌ သူတို့ ကွဲပြားသော အရပ်
၁၃ ရပ်တို့ကငါနှုတ်ဆောင်မည်။– အတိုင်းတိုင်းအ
ပြည်ပြည်တို့ကခေါ်ခဲ့၍ စုဝေးစေပြီးလျှင်၊ သူတို့
နေရင်းပြည်သို့ပို့ဆောင်မည်။ ဣသရေလတောင်
တို့အပေါ်၊ မြစ်တို့အနားဘဝ စရှိသော နေစရာအ
၁၄ ရပ်ရပ်တို့၌ကျွေးမွေးမည်။–ကောင်းသောကျက်
စားရာအရပ်၌ကျွေးမွေးမည်။မြင့်သောဣသရေ
လတောင်တို့ အပေါ်မှာ သူတို့ခြံရှိလိမ့်မည်။ သူ
တို့သည်ဣသရေလတောင်တို့အပေါ်မှာကောင်း
သော ခြံ၌ အိပ်၍၊ ကြွယ်ဝသော ကျက်စားရာ၌
၁၅ ကျက်စားရကြလိမ့်မည်။–ငါသည်ငါ့သိုးများကို
ကျွေးမွေးမည်။ အိပ်ရာကို [illegible]ပေးမည်။–

၁၆ ပျောက်သော သိုးကို ငါရှာမည်၊ သူတပါး နှင်
သောသိုးကို လိုက်၍ ဆောင်ခဲ့မည်၊ အရိုး ကျိုး
သောသိုးကို အဝတ်နှင့် စည်းမည်၊ အားနည်း
သောသိုးကို မစမည်၊ ဆူဖြိုး၍အားရှိသောသိုး
ကိုကား၊ တရားအတိုင်း ကျွေးမွေး၍ ကွပ်ညှပ်
၁၇ မည်ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။— အ
ရှင် ထာဝရ ဘုရား မိန့် တော်မူသည် ကား၊ အို
ငါ့သိုးတို့၊ တိရိစ္ဆာန်အမျိုးမျိုးတို့ကိုင်၊ သိုးထီး
၁၈ နှင့်ဆိတ်ထီးတို့ကိုင်ငါပိုင်းခြားမည်။—သင်တို့
သည် ကောင်းသော ကျက်စားရာအရပ်၌ စား
သည်သာမက၊ ကျန်သောမြက်ပင်ကို နင်းသော
အမှုသည် သာမည အမှုဖြစ်သည်ဟု ထင်မှတ်
ကြသလော၊ ကြည်သော ရေကို သောက်သည်
သာမက၊ ကျန်သော ရေကို ခြေနှင့် နောက်စေ
သောအမှုသည် သာမညအမှုဖြစ်သည်ဟု ထင်
၁၉ မှတ်ကြသလော။— သင်တို့နင်းသောမြက်ပင်ကို
၎င်း၊ ခြေနှင့် နောက်စေသောရေကို၎င်း၊ ငါ့သိုးတို့
သည်စားသောက်ရကြမည်လော။
၂၀ ထို့ကြောင့်၊ ထိုသူတို့အား အရှင်ထာဝရဘုရား
မိန့်တော်မူသည်ကား၊ ဆူဖြိုးသောတိရိစ္ဆာန်တို့
နှင့် ပိန်ကြုံသော တိရိစ္ဆာန်တို့ကို ငါသည်ကိုယ်
၂၁ တိုင် ပိုင်းခြားမည်။— သင်တို့သည် အားနည်း
သောသိုးတို့ကို အရပ်ရပ်သို့ ကွဲပြားစေခြင်းငှါ
နံပါး နှင့်၎င်း၊ ပခုံးနှင့်၎င်း တိုး၍ ဦးချိုနှင့် ခွေသော
၂၂ ကြောင့်၊—ငါသည်ငါ့သိုးတို့ကိုကယ်တင်သဖြင့်၊
သူတို့သည် နောက်တဖန် လုယူရာမဖြစ် ရကြ။
တိရိစ္ဆာန်အမျိုးမျိုးတို့ကိုလည်းငါပိုင်းခြားမည်။—
၂၃ ထိုးထိန်း တဦးကိုလည်း ငါခန့်ထား၍ သူသည်
ကျွေးမွေးလိမ့်မည်၊ ငါ၏ကျွန်ဒါဝိဒ်သည် သူတို့
၂၄ ကို ကျွေးမွေး၍ သိုးထိန်းလုပ်ရလိမ့်မည်။— ငါ
ထာဝရ ဘုရား သည် သူတို့၏ ဘုရား သခင် ဖြစ်
မည်၊ ငါ၏ ကျွန်ဒါဝိဒ်သည်လည်း၊ သူတို့၏ မင်း
၂၅ ဖြစ်ရလိမ့်မည်။ ငါထာဝရဘုရားပြောပြီ။—သူတို့
နှင့်ငြိမ်သက်ခြင်းပဋိညာဉ်ကိုငါဖွဲ့၍၊ ဆိုးသော
သားရဲ တို့ ကို ထို ပြည်၌ ပယ်ဖြတ် မည်၊ သူတို့
သည် လွင် ပြင်၌ ငြိမ် ဝပ်စွာ နေ၍ တော၌ အိပ်
၂၆ ပျော်ကြ လိမ့်မည်။— သူတို့ကို၎င်း၊ ငါ၏ တောင်
တော် ပတ် လည်၌ ရှိသော အရပ် တို့ကို ၎င် ငါ
ကောင်းကြီးပေး၍၊ အချိန်တန်လျှင်မိုဃ်းကိုရွာ
စေသဖြင့်၊ကောင်းကြီးမိုဃ်းရေကျရလိမ့်မည်။—
၂၇ တောသစ်ပင်သည် အသီးကို သီးလိမ့်မည်၊ မြေ
သည်လည်းအသီးအနှံကိုးပေးလိမ့်မည်၊ ပြည်
ထဲ၌သူတို့သည်ငြိမ်ဝပ်စွာနေရကြလိမ့်မည်။ သူတို့
ထမ်းသောထမ်းပိုးကြိုးကိုငါဖြတ်၍၊ အစေခံအ
ထံစေခိုင်းသောသူတို့လက်မှကယ်နှုတ်သော
အခါ၊ငါသည်ထာဝရဘုရားဖြစ်ကြောင်းကိုသိ
၂၈ ရကြလိမ့်မည်။—နောက်တဖန်တပါးအမျိုးသား
တို့သည် မလုမယူ ရကြ၊ ပြည်သားရဲ တို့သည်
လည်း ကိုက် ၍ မစား ရကြ၊ အဘယ် သူမျှ မ
ကြောက်စေဘဲ၊ သူတို့သည် ငြိမ်ဝပ်စွာ နေရကြ
၂၉ လိမ့်မည်။—အသရေရှိသောဥယျာဉ်ကိုလည်းသူ
တို့အဖို့ ငါပြုစုမည်၊ နောက်တဖန်ပြည်၌ အစာ
အာဟာရ ခေါင်းပါး၍၊ သူတို့ သည် ပျက်စီး
ခြင်းကို မခံရကြ၊ တပါးအမျိုးသားတို့၏ ကဲ့ရဲ့
၃၀ ခြင်းကိုလည်း မခံရကြ။— သူတို့၏ ဘုရားသခင်
ငါထာဝရဘုရားသည်သူတို့နှင့်အတူရှိကြောင်း
ကို၎င်း၊ဣသရေလအမျိုးသားတည်းဟူသောသူ
တို့သည်ငါ၏လူဖြစ်ကြောင်းကို၎င်း သိရကြလိမ့်
၃၁ မည်ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။— ငါ
၏ကျက်စားရာအရပ်၌ရှိသော ငါ့သိုးတို့၊ သင်တို့
သည် လူ ဖြစ်ကြ၏။ ငါသည် လည်း သင်တို့၏
ဘုရားသခင်ဖြစ်သည်ဟု၊ အရှင်ထာဝရဘုရား
မိန့်တော်မူ၏။

## ၃၅

၁ တဖန် ထာဝရဘုရား၏ နှုတ်ကပတ်တော်သည်
၂ ငါ့ဆီသို့ ရောက် လာ၍၊— အချင်း လူသား၊ သင်
သည်စိရတောင်တဘက်သို့မျက်နှာထား၍ပရော
ဖက်ပြုလျက်၊အရှင်ထာဝရဘုရား၏အမိန့်တော်
၃ ကိုဆင့်ဆိုရမည်မှာ၊- အို စိရတောင်၊သင့်တစ်ဘက်
၌ ငါနေ၏၊ သင့်ကို ငါလိုက်၍ လုတ်ဆင် ပယ်
၄ ရှင်းမည်။— သင်၏ မြို့တို့ကို ငါဖျက်ဆီး သဖြင့်
သင်သည် လူဆိတ်ညံ လျက်ရှိ၍၊ ငါသည် ထာ
ဝရဘုရားဖြစ်ကြောင်းကို သိရလိမ့်မည်။— သင်
၅ သည်အစဉ်ရန်ငြိုး၍ ဣသရေလအမျိုးသား
တို့၌အမှုရောက်သောကာလ၊အပြစ်ကြောင့်ခံရ
သောကာလအဆုံး၌၊ သူတို့အသက်ကို ထားနှင့်
၆ ထုတ်သောကြောင့်၊— အရှင်ထာဝရဘုရား မိန့်
တော်မူသည်ကား၊ငါအသက်ရှင်သည်အတိုင်း၊
အသက်သတ်ခြင်းအမှုကိုသင်၌ငါပြု၍၊ ထိုအမှု
သည်သင့်ကို လိုက်မည်၊ အသက်သတ်ခြင်းအ
မှုကိုသင်မရွံ့သောကြောင့်၊ ထိုအမှုသည်သင့်
ကို လိုက်ရလိမ့်မည်။— ထိုသို့ စိရတောင်ကိုငါ
လုတ်ဆင်ပယ်ရှင်းသဖြင့် ထွက်သွား သောသူ၊
ပြန်လာသော သူတို့ကို ပယ်ဖြတ်မည်။— ထို၏

တောင်ထိုကိုထည်း၊ သင်၏သူရဲ အသေ ကောင်
တို့နှင့် ငါ ဖြည့်စေမည်၊ သင့်နေရာ ကုန်း၊ ချိုင့်၊
မြစ်နားရှိသမျှတို့၌ ဓားဖြင့်အသေခံရသော သူတို့သည်
၉ ပြုလိမ့်မည်။- သင့်ကိုအစဉ်မပြတ် လူဆိတ်သုဉ်း
ပယ်ရှင်းသောမြေဖြစ်စေ၍၊ သင်၏မြို့တို့၌ အစဉ် သူမှုမ
နေရ။ ငါသည်ထာဝရဘုရားဖြစ်ကြောင်းကိုသင်
၁၀ သိရလိမ့်မည်။- သင်က၊ ဤတိုင်းပြည်နှစ်ပြည်ကို
ငါတို့သည်သိမ်း၍ ပိုင်မည်ဟု၊ ထိုပြည်၌ ထာ
၁၁ ဝရဘုရားရှိတော်မူလျက်နှင့်ဆိုမိသောကြောင့်၊- အရှင်
ထာဝရဘုရားမိန့်တော်မူသည်ကား၊ ငါအသက်
ရှင်သည်အတိုင်း၊ သင်သည်သူတို့ကိုရန်ငြိုး၍
ငြူစူသောစိတ်၊ မနာလိုသောစိတ် ထိုက်တွန်းသည်
နှင့်အညီသင်၌ ငါပြုမည်။ သင့်ကိုစီရင်သောအ
၁၂ ခါ၊ သူတို့တွင် ငါထင်ရှားလိမ့်မည်။- သင်က၊ ဣ
သရေလ တောင်တို့သည် ပျက်စီး၍ ငါတို့ စား
စရာဖို့ဖြစ်ကြ၏ဟု၊ ကဲ့ရဲ့၍ပြောဆိုသောစကား
အသုံးအနှုန်းတို့ကို ငါထာဝရဘုရား ကြားကြောင်း
၁၃ ကို သင် သိရ လိမ့်မည်။- ထိုမှတပါး သင်သည် ငါ့တ
ဘက်၌ဝါကြွားစွာ ပြောမိသောစကား အလုံးစုံတို့
၁၄ ကိုငါကြားပြီဟု မိန့်တော်မူ၏။- အရှင် ထာဝရ
ဘုရား မိန့်တော် မူသည် ကား၊ တပြည်လုံး ရွှင်
၁၅ လန်းသောအခါသင့်ကိုငါဖျက်ဆီးမည်။- ဣသ
ရေလ အမျိုးသားတို့အမွေမြေ ပျက်စီးသည်ကို
သင်သည် ဝမ်းမြောက် သောကြောင့်၊ ထိုအတူ
သင်၌ ငါပြုမည်။ စိရတောင်၊ သင်နှင့် တကွ
ဧဒုံပြည်သည် အကုန်အစင်ပျက်စီး၍၊ ငါသည်
ထာဝရဘုရားဖြစ်ကြောင်းကိုသိရကြလိမ့်မည်
ဟုမိန့်တော်မူ၏။

၃၆

၁ တဖန် အချင်းလူသား၊ ဣသရေလတောင်တို့
အားပရောဖက်ပြု၍ ဆင့်ဆိုရမည်မှာ၊ အိုဣသ
ရေလတောင်တို့၊ ထာဝရဘုရား၏အမိန့်တော်ကို
၂ နားထောင်ကြလော့။- အရှင်ထာဝရဘုရားမိန့်
တော်မူသည်ကား၊ ရန်သူက၊ အေ့ဟေ၊ ထာဝရ
တောင်တို့သည် ငါတို့ထက်သို့ ရောက်ကြပြီဟု၊
၃ သင်တို့တဘက်၌ ဆိုမိသောကြောင့်၊- ပရောဖက်
ပြု၍ အရှင်ထာဝရဘုရား၏ အမိန့်တော်ကို ဆင့်
ဆိုရမည်မှာ၊ သင်တို့သည် ကျန်ကြွင်းသော တ
ပါး အမျိုးသား တို့သိမ်းယူရာ ဖြစ်ရသည် အိုင်း
အခေါင်၊ သင်တို့ကို သုတ်သင် ပယ်ရှင်း၍ ပတ်
ထည့် ကိုက်စားသောကြောင့်၎င်း၊ သင်တို့သည်
လူများ ပြောဆိုစရာ၊ ကဲ့ရဲ့စရာ ဖြစ် သောကြောင့်
၄ ၎င်း၊- အိုဣသရေလ တောင်တို့၊ အရှင် ထာဝရ
ဘုရား၏အမိန့်တော်ကိုနားထောင်ကြလော့။ အ
ရှင်ထာဝရဘုရားသည်တောင်ကြီး၊ တောင်ငယ်၊
မြစ်ရေစီးရာ၊ ချိုင့်ရာ၊ လူဆိတ်သင် သော ဟင်းလင်း
ဖြစ်၍၊ပတ်ထည်၌နေသောတပါးအမျိုးသားအ
ကျန်အကြွင်းတို့သည်လုယူကဲ့ရဲ့၍၊ မြို့ထားစွန့်
၅ ပစ်သော မြို့တို့အားမိန့်တော်မူသည်ကား။- အ
ကယ်စင်စစ် ငပြည် ကို လု ယူ စရာ ဖို့ ဖြစ်ထား
ခြင်းငှါ အကွန့် ဝမ်းမြောက် သောစိတ်၊ အငြိုး
ထား သော စိတ် ရှိ၍၊ ကိုယ်ပိုင် ယူ ထု စရာ ဖို့
စီရင်သော ဧဒုံအမျိုးသား၊ အပေါင်းတို့နှင့် ကျန်
ကြွင်းသော တပါး အမျိုးသား တို့ တဘက်၌ ငါ
၆ သည်ဒေါသမီးထွက်၍ပြောထားပြီ။- ထိုဖြစ်၍၊
ဣသရေလ ပြည် ကို ရည် မှတ်၍ ပ ရော ဖက် ပြု
လျက်၊ တောင်ကြီး၊ တောင်ငယ်၊ မြစ်ရေစီးရာ၊
ချိုင့်ရာ တို့ အား အရှင် ထာဝရ ဘု ရား ၏ အမိန့်
တော်ကိုဆင့် ဆိုရမည်မှာ၊ သင်တို့သည် တပါး
အမျိုးသားတို့ကဲ့ရဲ့ခြင်းကိုခံရသောကြောင့်၊ ငါ
၇ သည်ဒေါသအရှက်ထွက်၍ပြောပြီ။-အရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ အကယ်စင်စစ်
သင်တို့ပတ်ထည်၌ နေ သောတပါး အမျိုး သား
တို့သည်ကိုယ်အရှက်ကွဲခြင်းကို ခံရကြလိမ့်မည်ဟု
၈ ငါကျိန်ဆိုပြီ။- အိုဣသရေလတောင်တို့၊ သင်
တို့မူကား၊ အပင် ပေါက် ၍ ငါ၏လူ ဣသရေလ
အမျိုးသားတို့အဖို့အသီးကို သီးရကြလိမ့်မည်။
၉ သူတို့ပြန်လာမှုန်နီးပြီ။- ငါသည်သင်တို့ဘက်၌
နေ၍ သင်တို့ရှိရာသို့ ပြန်ကြည့်သဖြင့်၊ သင်တို့အ
ပေါ်မှာ ထယ်ထိုး၍မျိုးစေ့ ကြဲ ကြ လိမ့်မည်။-
၁၀ သင်တို့ အပေါ်မှာ လူ များ ပြည်း ဟူသော ဣသ
ရေလအမျိုးသားအပေါင်းတို့ကို ငါပြန့်ပွားစေ
သဖြင့်၊ သူတို့သည်မြို့ရွာ၌နေ၍ ပျက်စီးသော
၁၁ အရပ်များကို ပြုပြင်ကြလိမ့်မည်။- သင်တို့ အ
ပေါ်မှာလူနှင့်တိရစ္ဆာန်တို့ကို ငါများပြားစေသ
ဖြင့်၊ သူတို့သည်ပွားများ၍ သားမြေးအစဉ်အ
ဆက်ရှိကြလိမ့်မည်။ နေရင်းအရပ်တို့၌ ငါနေရာ
ချ၍၊ အရင်ပြုသကဲ့သို့ ငါ ကျေးဇူး ပြုမည်။ ငါ
သည် ထာဝရဘုရားဖြစ်ကြောင်းကို သင်တို့သိ
၁၂ ရကြလိမ့်မည်။-သင်တို့အပေါ်မှာလူများအစဉ်
ဟူသောငါ၏လူ ဣသရေလအမျိုးသားတို့သည်
သွား လာ မည် အ ကြောင်း ငါ ပြု မည်။ သူ တို့
သည် သင် တို့ ကို သိမ်း ယူ၍ အမွေခံရသဖြင့်၊
နောက် တဖန် သင် တို့ ကြောင့် သား ... ... ရ

၁၃ ကြ၏။- အရှင် ထာဝရ ဘုရား မိန့် တော် မူ သည်
ကား၊ အချင်း ပြည်၊ သင် သည် လူတို့ကို ကိုက်
စားတတ်၏။ ကိုယ်အမျိုးသားတို့ကို လုယူဖျက်
ဆီး တတ် ၏ ဟု၊ သူ တပါး ဆို သော ကြောင့်၊-
၁၄ နောက်တဖန်သင်သည်လူတို့ကိုမကိုက်မစားရ။
ကိုယ်အမျိုးသားတို့၌လုယူဖျက်ဆီးခြင်းကိုမပြု
၁၅ ရဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။-နောက်
တဖန် အတိုင်းတိုင်းအပြည် ပြည် ကဲ့ရဲ့ အ ပြစ်
တင် သော စကား ကို မ ကြား ရ။ နောက် တဖန်
ကိုယ် အမျိုးသားတို့၌ လုယူဖျက်ဆီးခြင်းကို မ
ပြုရဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၆ တ ဖန် ထာဝရ ဘုရား ၏ နှုတ် က ပတ် တော်
၁၇ သည်ငါ့ဆီသို့ရောက်လာ၍၊- အချင်းလူသား၊ ဣ
သရေလ အမျိုး သား တို့သည် ကိုယ် ပြည်၌ နေ
သောအခါ၊အလိုအလျောက်ကျင့်ကြံပြုမူသော
အားဖြင့် ထိုပြည်ကိုညစ်ညူးစေကြ၏။ သူတို့အ
ကျင့်ဓလေ့သည် ရွေမှာ ဥတု ရောက်သောမိန်း
၁၈ ၏အညစ်အကြေးကဲ့သို့ဖြစ်၏။- ထိုပြည်၌လူအ
သက်ကိုသတ်သောအပြစ်၊ရုပ်တုတို့နှင့်ညစ်ညူး
စေသောအပြစ် ကြောင့်၊ ငါသည် ဒေါသအမျက်
၁၉ ကို သွန်းလောင်းပြီ။-အတိုင်းတိုင်းအပြည်ပြည်
သို့ ငါကွဲပြား ပြန့် လွင့်စေပြီ။ သူတို့ကျင့် ကြံပြုမူ
၂၀ သည်အတိုင်း ငါစီရင်ပြီ။- သို့ရာတွင်၊ တကျွန်း
တနိုင်ငံသို့ ရောက်သောအခါ ဤသူတို့ သည်ထာ
ဝရဘုရား ၏ လူဖြစ် ကြ၏။ ကိုယ် ပြည်မှ ထွက်
သွားရ ကြ၏ဟု၊ သူတပါး ပြောဆို သဖြင့် ငါ၏
၂၁ နာမမြတ်ကိုရှုတ်ချသောကြောင့်၊-ဣသရေလအ
မျိုးသားရောက်ရာ တကျွန်းတနိုင်ငံအရပ်ရပ်တို့
၌ရှုတ်ချသော ငါ၏နာမမြတ် ကို ငါနှစ်မြော၏။-
၂၂ သို့ဖြစ်၍၊ အရှင် ထာဝရဘုရား၏အမိန့်တော်ကို
ဣသရေလအမျိုးသားတို့အား ဆင့်ဆိုရမည်မှာ၊
အိုဣသရေလအမျိုး၊သင်တို့ကိုထောက်၍ ဤအ
မှုကို ငါ ပြု သည် မဟုတ်။ သင် တို့ ရောက် သ မျှ
သော အရပ် တို့၌ လူ အမျိုးမျိုး တို့ရှေ့မှာ ရှုတ်ချ
၂၃ သောငါ၏နာမမြတ်ကိုသာထောက်၍ပြု၏။- တ
ပါးအမျိုးသားတို့အလယ်၌ သင်တို့ရှုတ်ချသော
ငါ၏ မဟာနာမတော်ကို ငါမြှုးမြောက်မည်။ သူ
တို့ မျက်မှောက်၌ သင်တို့အားဖြင့် ငါသည် မြှုး
မြောက်ရာသို့ ရောက်သော အခါ၊ ငါသည် ထာ
ဝရ ဘုရား ဖြစ်ကြောင်းကို သူ တို့ သိရကြ လိမ့်
၂၄ မည်ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။- အ
ကြောင်းမူကား၊သင်တို့ကို အတိုင်းတိုင်းအပြည်
ပြည်တို့ကငါခေါ်ခဲ့၍ စုဝေးစေပြီးလျှင်၊ သင်တို့
၂၅ နေရင်းပြည်သို့ ပို့ဆောင်မည်။- သင်တို့အပေါ်
မှာသန့်ရှင်းသောရေကိုဖြန်းသဖြင့်၊ သင်တို့ကို
ခပ်သိမ်းသော အညစ်အကြေး မှစ၍ ခပ်သိမ်း
၂၆ သောရုပ်တုတို့နှင့်ကင်းစင်စေမည်။-မိတ်နှစ်လုံး
သစ်ကို ငါပေးမည်။ သဘောသစ်ကို သွင်းထား
မည်။ သင်တို့ ကိုယ်ခန္ဓာထဲက ကျောက်နှစ်လုံး
၂၇ ကို နှုတ်၍ အသားနှစ်လုံးကိုပေးမည်။-ငါ့ဝိညာဉ်
တော်ကိုလည်း သင်တို့အထဲသို့ သွင်းပေးသဖြင့်၊ သင်
တို့သည်ငါ၏ တရားလမ်းသို့ လိုက်၍၊ ငါစီရင်
တော်မူချက်တို့ကို စောင့်ရှောက် ကြလိမ့်မည်။-
၂၈ ဘိုးဘေးတို့ အား ငါပေး သော ပြည် ၌ သင်တို့
သည် နေရ၍ငါ၏ လူဖြစ်ကြလိမ့်မည်။ ငါသည်
၂၉ လည်း သင်တို့၏ဘုရားသခင်ဖြစ်မည်။- သင်တို့
ကို အညစ်အကြေး ရှိသမျှတို့နှင့် ငါကင်းလွတ်
စေမည်။ အစာခေါင်းပါး ခြင်းဘေးကို ပယ်ရှား
ခြင်း ငှါ၊ ဆန်စပါး ကို မှာလိုက်၍ များ ပြား စေ
၃၀ မည်။- သင်တို့သည် ငွတ်သိပ်၍ တပါး အမျိုး
သားတို့ ကဲ့ရဲ့ခြင်းနှင့် လွတ်စေမည့်အကြောင်း၊
သစ်ပင်အသီးနှင့်မြေအသီးအနှံကိုငါများပြား
၃၁ စေမည်။- ထိုအခါ သင်တို့သည် ကိုယ်ကျင့်သုံး
သောအကျင့်ဆိုးနှင့် မကောင်း သော အမှုတို့ကို
အောင်းမေ့၍၊ ကိုယ်ဒုစရိုက်အပြစ်၊စက်ဆုပ် ရွံ
ရှာဖွယ်သော အမှုတို့ကြောင့် ကိုယ်ကို ကိုယ် ရွံ
၃၂ ရှာကြလိမ့်မည်။- သင်တို့ကိုထောက်၍ ဤအမှု
ကို ငါပြုသည်မဟုတ်ဟု သိမှတ်ကြလော့။ အိုဣ
သရေလအမျိုး၊ ကိုယ် ပြုမိသော အမှု ကြောင့်
ရှက်ကြောက်လျက်၊ မိန်းမော တွေဝေလျက်နေ
ကြလော့ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။-
၃၃ အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊သင်
တို့ဒုစရိုက်အပြစ်ရှိသမျှတို့ကိုငါရှင်းလင်းသော
အခါ၊မြို့ရွား၌လူနေစေ၍ပျက်စီးသောအရပ်တို့
၃၄ သည် ပြုပြင်ခြင်းရှိကြလိမ့်မည်။- ရှောက်သွား
သောသူအပေါင်းတို့၏မျက်မှောက်၌ဖွန်ဖြစ်သုံး
၃၅ သောမြေတွင်တဖန်လယ်လုပ်ကြလိမ့်မည်။-ထို
အခါသူတပါးတို့က၊ အရင်ဖွန်ဖြစ်သော ဤမြေ
သည် ဧဒင်ဥယျာဉ်ကဲ့သို့ ဖြစ်လေပြီ။ ဖျက်ဆီး
ပယ်ရှင်းပျက်စီးသောမြို့တို့သည်လည်း မိုင်ခံ၍
မြို့သားတို့နှင့် ပြည့်စုံ ကြ ပြီ ဟု ပြော ကြ လိမ့်
၃၆ မည်။- ထို အခါ ပျက်စီး သော အရပ် တို့ကို ငါ
ထာဝရ ဘုရား ပြုပြင် ကြောင်းကို ၎င်း၊ ဖွန်ဖြစ်
သောမြေတွင် လယ်လုပ်ကြောင်းကို၎င်း၊ သင်တို့

ပင်ထည့်၍ နေရစ် သော တပါးအမျိုးသားတို့
သည်သိရကြလိမ့်မည်၊ ငါထာဝရဘုရားသည်
၃၇ မိန့်မြွက်သည်အတိုင်းပြုမည်၊- အရှင်ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ဣသရေလအမျိုး၊
အမှု ဤအမှုကို ငါပြုရမည် အကြောင်း၊ သူတို့
သည် ငါ့ကို တောင်းပန်ရကြမည်၊ သိုးများပြား
သကဲ့သို့ ထိုအမျိုးသားချင်း တို့ကို များပြား စေ
၃၈ မည်၊- ပွဲတော်နေ့၌ ယေရုရှလင်မြို့တို့သည် သန့်ရှင်းသော
သိုးစု တည်းဟူသော၊ ပူဇော်ခြင်းငှါ ယေရုရှ
လင် သိုးစု ကဲ့သို့သော လူစုတို့နှင့် ပြည့်စုံ၍၊ ငါ
သည် ထာဝရ ဘုရား ဖြစ် ကြောင်း ကို သိရ ကြ
လိမ့်မည်ဟုမိန့်တော်မူ၏။

၃၇

၁ ထိုနောက်ထာဝရဘုရား၏ လက်တော်သည် ငါ့အ
ပေါ်မှာရှိ၍ ဝိညာဉ် တော် အားဖြင့် ငါ့ကို ပြင်သို့
ဆောင် သွားလျက်၊ အရိုးတို့နှင့်ပြည့်သော ချိုင့်
၂ အထဲ၌ထားပြီးလျှင်၊-ထိုအရိုးတို့ပတ်လည်
၌ရှောက်သွားစေတော်မူ၏၊ထိုချိုင့်ရှက်နှာပြင်
၌ များစွာသော အရိုးတို့ သည် ရှိ၍ အလွန် သွေ့
၃ ခြောက်ကြ၏၊-ထာဝရဘုရားကလည်း၊ အချင်း
လူသား၊ ဤ အရိုး တို့သည် အသက် ရှင် နိုင် သ
လော်ဟုမေးတော်မူလျှင်၊ငါက၊ အိုအရှင်ထာဝရ
ဘုရား၊ ကိုယ်တော်သိတော်မူသည်ဟုလျှောက်
၄ ထ၏၊-ထာဝရဘုရားကလည်း၊ ဤအရိုးတို့အ
ပေါ်မှာ ပရောဖက်ပြု၍ ဟောပြောရမည်မှာ၊ အို
သွေ့ခြောက်သော အရိုးတို့၊ထာဝရ ဘုရား၏ အ
၅ မိန့်တော်ကိုနားထောင်ကြလော့။-ဤသွေ့ခြောက်
သော အရိုးတို့အား အရှင် ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ ငါသည်သင်တို့ အထဲသို့အ
သက်ကို သွင်း၍သင်တို့သည် အသက် ရှင်ရကြ
၆ မည်။- သင်တို့အပေါ်မှာ အကြောတို့ကိုငါတင်
၍ အသားကို တက်စေမည်၊ အရေနှင့် ဖုံး အုပ်၍
၍၊အသက်ကိုသွင်းသဖြင့်သင်တို့သည်အသက်
ရှင်၍၊ ငါသည် ထာဝရဘုရား ဖြစ်ကြောင်းကို
၇ သိရ ကြ လိမ့်မည်ဟု၊- မှာထား တော် မူ သည်
အတိုင်း ငါသည် ပရောဖက်ပြု၏၊ ပရောဖက်ပြု
စဉ်တွင် အသံ မြည်၏၊ လှုပ်ရှားခြင်းလည်း ရှိ
၏၊အရိုးတို့သည်တရုအနီးသို့တရုချည်းကြ၏၊-
၈ ငါ ကြည့်ရှုစဉ်တွင် အကြောတို့သည် ပေါ်လာ
၍အသားလည်းတက်၏၊ အရေလည်းဖုံးအုပ်
၉ ၏၊သို့ရာတွင်၊အသက်မရှိသေး၊-ထာဝရဘုရား
ကလည်း၊ အချင်းလူသား၊ လေအားပရောဖက်ပြု
လော့၊ အချင်းလူသား၊ လေအား ပရောဖက်ပြု၍
ဟောလော့၊ အရှင်ထာဝရဘုရား၏အမိန့်တော်ကိုလေ
အားဆင့်ဆိုရမည်မှာ၊ အိုလေ၊ အရပ်လေးမျက်
နှာတို့မှလာ၍၊ ဤအသေကောင်တို့သည်အသက်
ရှင်မည် အကြောင်း သူတို့အပေါ်မှာ မှုတ်လော့
၁၀ ဟု၊- မှာထားတော်မူသည်အတိုင်း ငါသည်ပ
ရောဖက်ပြု၍၊လေသည်သူတို့အထဲသို့ဝင်သဖြင့်
သူတို့သည်အသက်ရှင်၍၊အလွန်များသောစစ်
၁၁ သူရဲဗိုလ်ခြေ ဖြစ်လျက်မတ်တတ်ရပ်နေကြ၏၊-ထာဝရဘုရား
ကလည်း၊အချင်းလူသား၊ဤအရိုးတို့သည်ဣသ
ရေလအမျိုးအပေါင်း ဖြစ်ကြ၏၊ငါတို့အရိုးများ
သည် သွေ့ခြောက်ကြ၏၊ မျှော်လင့်စရာမရှိ၊ ငါ
တို့သည် ဆုံးရှုံးကြပြီဟု သူတို့ ဆိုတတ်ကြ၏၊-
၁၂ သို့ဖြစ်၍၊ ပရောဖက် ပြု လျက် အရှင် ထာဝရ
ဘုရား၏အမိန့်တော်ကိုသူတို့အားဆင့်ဆိုရမည်
မှာ၊ အချင်းငါ၏လူတို့၊ သင်တို့ သင်္ချိုင်းတွင်း
များကိုငါဖွင့်၍သင်တို့ကိုထုတ်ပြီးလျှင်ဣသရေ
၁၃ လပြည်သို့ ခေါ်ဆောင်မည်၊- အချင်းငါ၏ လူတို့၊
သင်တို့သင်္ချိုင်းတွင်းများကိုငါဖွင့်၍သင်တို့
၁၄ ကို ထုတ်ပြီးလျှင်၊- အသက် ရှင်စေခြင်းငှါ ငါ
သည်ကိုယ်အသက်ကိုသွင်းပေး၍၊သင်တို့ကိုနေ
ရင်းပြည်၌နေရာချသောအခါ၊ ငါသည် ထာဝရ
ဘုရားဖြစ်ကြောင်းကိုသင်တို့သိရကြလိမ့်မည်၊
ငါ ထာဝရ ဘုရား ပြော သည် အတိုင်း ပြည့်စုံ
ကြောင်းကိုလည်းသိရကြလိမ့်မည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။
၁၅ ထိုနောက် ထာဝရ ဘုရား၏ နှုတ်က ပတ် တော်
၁၆ သည် ငါ့ဆီသို့ ရောက် လာ၍၊- အချင်း လူသား၊
ဂုတ်တချောင်းကို ယူ၍၊ ယုဒအမျိုး နှင့် သူ၏ အ
ပေါင်းအဖော် ဣသရေလ အမျိုးသား၊ အမှို့ဟု
ရေး မှတ်လော့၊ တဖန် ဂုတ်တချောင်းကို ယူ၍၊
ယောသပ် အမျိုး နှင့် သူ၏ အပေါင်း အဖော် ဣ
သရေလ အမျိုးသား များ အမှို့၊ ဧဖရိမ် ဂုတ်ပေ
၁၇ တည်းဟုရေးမှတ်လော့၊- ထိုဂုတ် နှစ်ချောင်းကို
တချောင်းတည်းဖြစ်စေခြင်းငှါပူးထား၍၊ ထိုတ
၁၈ ချောင်းတည်းသောဂုတ်ကိုလက်စွဲလော့၊- သင်
၏အမျိုးသားချင်းတို့က၊ ထိုသို့ပြုသော်၊အဘယ်
သို့ဆိုလိုသည်ကို ငါတို့အားမပြောသင့်သလော
၁၉ ဟုမေးလျှင်၊-အရှင်ထာဝရဘုရား၏အမိန့်တော်
ကို သူ တို့ အား ဆင့် ဆို ရမည် မှာ၊ ဧဖရိမ် ကိုင်
သောယောသပ်၏ဂုတ်နှင့်၊သူ၏အပေါင်းအဖော်
ဣသရေလအမျိုးအနွယ်တို့ကိုငါယူ၍ယုဒဂုတ်
နှင့် အတူပူးထားပြီးလျှင်၊ တချောင်းတည်းဖြစ်

သော ဂုတ်ကိုငါ ယူတော်မူမည်ဟု ဆင့်ဆိုလျက်၊—
၂၀ ထင်ရှားမှတ်သောထိုဂုတ်ကို သူတို့ရှေ့မှောက်
၂၁ ၌ထုတ်ပြလျက်နေလော့။— အရှင်ထာဝရဘုရား
၏အမိန့်တော်ကိုလည်းဆင့်ဆိုရမည်မှာ၊ ဣသ
ရေလအမျိုးသားတို့ ရောက်သော တပါးအမျိုး
သားနေရာ အရပ်ရပ်တို့မှ သူတို့ကို ငါ ခေါ်ခဲ့၍
စုဝေးစေပြီးလျှင်၊ သူတို့ကို နေရင်းပြည်သို့ ပို့
၂၂ ဆောင်မည်။— ထိုပြည်တွင် ဣသရေလ တောင်
တို့အပေါ်၌လူတမျိုးတည်းဖြစ်စေ၍၊ ရှင်ဘုရင်
တပါးတည်းသာလျှင်ထိုသူအပေါင်းတို့ကိုစိုးစံ
ရလိမ့်မည်။နောက်တဖန်သူတို့သည်လူနှစ်မျိုးမ
ဖြစ်ရ၊ နှစ်တိုင်း နှစ်ပြည် ကွဲပြားလျက်မရှိရ။—
၂၃ နောက်တဖန် သူတို့ရုပ်တုများ၊ စက်ဆုပ် ရွံရှာ
ဖွယ်သောအမှုများ၊ လွန်ကျူးခြင်းအမှုများ နှင့်
ကိုယ်ကို မညစ်ညူးစေရကြ။ သူတို့ပြစ်မှားသော
ရာရာ အရပ် တို့မှ ငါ ကယ် နှုတ်၍ သန့်ရှင်းစေ
မည်။ သူတို့သည် ငါ ၏ လူဖြစ်ကြလိမ့်မည်။ ငါ
၂၄ သည်လည်းသူတို့၏ဘုရားသခင်ဖြစ်မည်။—ငါ၏
ကျွန်ဒါဝိဒ်သည် သူတို့၏ ရှင်ဘုရင်ဖြစ်၍၊ ထိုသူ
အပေါင်းတို့သည် ထိန်းထိန်း တဦး တည်း ရှိကြ
လိမ့်မည်။ ငါစီရင် ထုံးဖွဲ့ ချက် တရား ထမ်းသို့
၂၅ လိုက်၍စောင့်ရှောက်ကြလိမ့်မည်။— ငါ၏ ကျွန်
ယာကုပ်အားငါပေး၍၊သင်တို့ဘိုးဘေးများနေ
ဘူးသော ပြည်၌ သူတို့နှင့် သား မြေး အစဉ်အ
ဆက်တို့သည်နေကြလိမ့်မည်။ ငါ၏ကျွန် ဒါဝိဒ်
သည်လည်းသူတို့ကိုအစဉ်အမြဲ စိုးစံလိမ့်မည်။—
၂၆ ထို မှ တပါး၊ သူတို့ နှင့်မိဿဟာယပဋိညာဉ်ကို
ငါဖွဲ့၍၊ ထိုပဋိညာဉ်သည် နိစ္စထာဝရပဋိညာဉ်
ဖြစ်လိမ့်မည်။ သူတို့ကို နေရာ ချ၍ များပြား စေ
မည်။ငါ၏သန့်ရှင်းရာဌာနကိုသူတို့အထဲ၌အ
၂၇ စဉ်အမြဲထားမည်။— ငါ၏ မိတ်မှန်တော်သည်
လည်းသူတို့၌ရှိ၍၊ ငါသည်သူတို့၏ဘုရားသခင်
ဖြစ်မည်။ သူတို့သည်လည်းငါ၏လူဖြစ်ကြလိမ့်
၂၈ မည်။—ထိုသို့ငါ၏သန့်ရှင်းရာဌာနသည်သူတို့အ
ထဲ၌အစဉ်အမြဲတည်သောအခါ၊ငါထာဝရ
ဘုရားသည် ဣသရေလ အမျိုးကို သန့်ရှင်း စေ
သည်ဟု၊တပါးအမျိုးသားတို့သည်သိရကြလိမ့်
မည်ဟုမိန့်တော်မူ၏။

၃၈

၁ တဖန် ထာဝရ ဘုရား ၏ နှုတ် က ပတ် တော်
၂ သည် ငါ့ဆီသို့ ရောက် လာ၍၊— အချင်း လူသား၊
ရောရှပြည်၊ မေရှက်ပြည်၊ တုဗလပြည်ကိုအစိုး
ရသော မာဂေါဂပြည်သား ဂေါဂ မင်းတစ်ထက်၌
၃ မျက်နှာထား၍ပရောဖက်ပြုလျက်၊— အရှင်ထာ
ဝရ ဘုရား၏ အမိန့်တော်ကို ဆင့် ဆိုရမည်မှာ၊
ရောရှ၊မေရှက်၊တုဗလပြည်တို့ကို အစိုးရသော
၄ ဆိုဂေါဂမင်း၊သင့်တဖက်၌ငါနေ၏။— သင့်ကိုငါ
ပြန်လာစေမည်။ သင့်ပါးရိုး ကိုသံချိတ်နှင့်ချိတ်
ပြီးလျှင်၊သင်မှစ၍ထူးဆန်းသောထက်နက်ကို—
မျိုးမျိုးကို ဆောင်သောသူ၊ မြင်းစီးသူရဲ၍ ထား
ကို ထက်ပွေ့သောလူအလုံးအရင်း များ နှင့် မြင်း၊
မြင်းစီးသူရဲ မိုလ်ခြေအပေါင်းတို့ကို ငါဆောင်ခဲ့
၅ မည်။—အသီးအသီးမြင်းသွားကိုင်၍ ထီးခေါင်း
ထုံးကိုဆောင်သောပေရသိပြည်သား၊ကုရှပြည်
၆ သား၊ဗုတပြည်သား။—ဂေါမာနှင့်သူ၏တပ်များ
မြောက်ပြည်သားတောဂါမအမျိုးနှင့်သူ၏တပ်
များအလုံးအရင်းအပေါင်းတို့သည် သင်နှင့်အ
၇ တူ လိုက်လာကြလိမ့်မည်။— သင်သည် မိမိ၌ စု
ဝေးသော လူအလုံး အရင်း များနှင့်တကွ ကိုယ်
ကိုပြင်ဆင်လော့။ ပြင်ဆင်လျက်နေလော့။ သူတို့
၈ ကို စောင့်လျက် နေလော့။— ကြာမြင့်စွာကာလ
လွန်ပြီးမှ သင်သည် ဖုစ်ချုပ်ရသောအခွင့် ရှိ
လိမ့်မည်။ ထားဘေးနှင့် လွတ်၍ လူ အမျိုးမျိုး
ထဲက နှုတ်သောပြည်သား၊ကြာမြင့်စွာဆိတ်ညံ
လျက် နေသော ဣသရေလတောင်တို့ အပေါ်သို့
တဖန်ဆောင်ခဲ့သောပြည်သားတို့ရှိရာသို့နောင်
ကာလ၌ သင်သည် စစ်ချီ၍ လာလိမ့်မည်။ ထို
ပြည် သား တို့ သည် လူ အ မျိုး မျိုး ထဲက နှုတ်
ဆောင်သောသူဖြစ်၍၊တပြည်လုံးငြိမ်ဝပ်လျက်
၉ ရှိနေသောအခါ၊—သင်သည်မိုဃ်းသက် မုန်တိုင်း
ကဲ့သို့တက်လာ၍၊သင်၌ပါသများသောတပ်သား
အလုံးအရင်းနှင့်တကွ၊ ထိုပြည်ကို မိုဃ်းမြုံ့ အ
၁၀ ကဲ့သို့ ဖြစ်လိမ့်မည်။— အရှင်ထာဝရဘုရား မိန့်
တော်မူသည်ကား၊ ထိုအခါ သင်သည် အရာရာ
တို့ကို ဆင်ခြင်၍ မကောင်း သော အကြံကို
၁၁ ကြံစည်လျက်၊—ရွာအနေဝုဏ်များသောပြည်၊မြို့ရိုး
မရှိ၊ တံခါး ကျင်နှင့် တံခါးမရှိ၊ မိုးရိပ်စရာ အ
ကြောင်းအလျှင်းမရှိ၊ငြိမ်ဝပ်သောပြည်သားတို့
၁၂ ရှိရာသို့ ငါ ချီသွား၍၊— သူတို့ ဥစ္စာကို လုယက်
သိမ်းယူမည်၊အရင်ဆိတ်ညံ၍ လူစုလူနေသော
အရပ်တို့ကိုငှင်၊ လူအမျိုးမျိုးထဲက စုဝေးသဖြင့်
တိရစ္ဆာန်များနှင့်ဥစ္စာများကိုရတတ်၍၊ပြည်အ
ထယ်၌ နေသောသူတို့ကိုငှင် လိုက်မည်ဟု ကြံ
၁၃ စည်လိမ့် မည်။— ရှေဘပြည်သား၊ ဒေဒန် ပြည်

သား၊ တာရှုကုန်သည်များ၊ ချင်္သေ့ပျိုအပေါင်း
တို့က၊ ကိုယ်တော်သည်လုယူခြင်းငှါ
လာသလော၊ လုယူခြင်းကို ဆောင်၍ ရွှေငွေကိုယူ၍၊
တိရိစ္ဆာန် များနှင့် ဥစ္စာ များကို ယူ သိမ်းသွား၍
လျက်၊ များစွာသောလုယက်ဖွယ်ဆီးခြင်းငှါအပေါင်း
အသင်းကိုစုဝေးစေပြီလောဟုမေးမြန်းကြလိမ့်
မည်။
၁၄ ထို့ကြောင့်၊ အချင်းလူသား၊ ပရောဖက်ပြု၍ အ
ရှင်ထာဝရဘုရား၏ အမိန့်တော်ကို ဂေါဂ အား
ဆင့်ဆိုရမည်မှာ၊ ငါ၏လူဣသရေလအမျိုးသား
တို့သည်ငြိမ်ဝပ်စွာနေသောအခါသင်သည်သိ
၁၅ ၍၊- မြင်းစီးသော လူအလုံး အရင်း အပေါင်း၊
အား ကြီး သော စစ်သူရဲ အပေါင်း တို့ နှင့် တကွ
၁၆ မြောက်ဖက်နားမှ ရှိလာမည်။- ပြည်ကို မိုဃ်း
ဖုံးသကဲ့သို့ငါ၏လူဣသရေလအမျိုးသားတို့ကို
ထက်၍ တိုက်လာမည်။ နောင်ကာလတွင် ငါ၏
ပြည်တဖက်၌ သင့်ကို ငါ ဆောင်ခဲ့မည် မဟုတ်
လော၊ အကြောင်းမူကား၊ ဂေါဂ၊ လူအမျိုး
မျိုးတို့ ရှေ့မျက်မှောက်၌ သင့်အားဖြင့် ငါသည်ရှိုး
မြောက် ရာသို့ ရောက် သော အခါ၊ သူတို့သည်
၁၇ ငါ့ကိုသိရကြမည်အကြောင်းတည်း။- အရှင်ထာ
ဝရဘုရား မိန့်တော်မူသည်ကား၊ ငါသည် စစ်ရှိ
စေမည်ဟု၊ လွန်လေပြီးသောရှေးကာလ၌ပရော
ဖက်ပြုသော ငါ၏ကျွန်ဣသရေလပရောဖက်တို့
အား ငါသည်ဗျာဒိတ်ပေးသောအခါ၊ သင့် ကို
၁၈ ရည်မှတ်သည် မဟုတ် လော။- အရှင် ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ ထိုကာလတွင်ဂေါ
ဂသည်ဣသရေလပြည်ကို တိုက်လာသောကာ
လအခါ၊ ငါသည် ဒေါသ အမျက် ရှိ၍ အမျက်
၁၉ ထွက်လိမ့်မည်။- အကယ်စင်စစ်ထိုအခါ ဣသ
ရေလ ပြည်၌ ကြီးစွာ သော လှုပ်ရှား ခြင်း ဖြစ်
လိမ့်မည်ဟု၊ ငါ၏ဒေါသမီးလောင်လျက်ငါပြော
၂၀ ပြီး-ပင်လယ်ငါး၊ မိုဃ်းကောင်း ကင်ငှက်၊ တော
တိရိစ္ဆာန်နှင့် မြေ၌တွားတတ်သော တိရိစ္ဆာန်၊
မြေပေါ်မှာရှိသောလူအပေါင်းတို့သည်ငါ့ရှေ့မှာ
တုန်လှုပ်ကြလိမ့်မည်။ တောင်တို့သည်ပြိုလျက်၊
အစောက်မြင့်သောအရပ်တို့သည်လဲလျက်၊ အ
လုံးစုံသောအုတ်ရိုးပြိုလျက်ရှိကြလိမ့်မည်။-
၂၁ အရှင် ထာဝရ ဘုရား မိန့် တော် မူ သည် ကား၊
ငါ့တောင်များအရပ်ရပ်တို့တွင်သူတဖက်၌ထား
ကို ငါ မှာ ထိုက် သဖြင့်၊ လူ အပေါင်း တို့သည်
အချင်းချင်းတယောက်ကိုတယောက် ထားနှင့် ခုတ်ကြလိမ့်
၂၂ မည်။- ငါသည်ကာလနာဘေး၊ အသေသတ်ခြင်း၊
ဘေးအားဖြင့် သူကိုစီရင် ပေးမည်။ သူနှင့်သူ၌
ပါသောတပ်များ၊ အလုံးအရင်းများ အပေါ်မှာ
သွန်းသောမိုဃ်းရေ၊ ကြီးသောမိုဃ်းသီး၊ ကန့်
၂၃ နှင့်ရောသောမီးမိုဃ်းကို ရွာစေမည်။- ထိုသို့ငါ
သည် ကိုယ်ကို ချီး မြှောက်၍ ရှိသေ စွယ် သော
ဂုဏ်ထင်ရှားကိုပြလျက်၊ များစွာသောလူမျိုး
တို့ရှေ့မှာထင်ရှားသောအခါ၊ ငါသည် ထာဝရ
ဘုရားဖြစ်ကြောင်းကိုသူတို့သိရကြလိမ့်မည်ဟု
မိန့်တော်မူ၏။

## ၃၉

၁ ထို့ကြောင့်၊ အချင်းလူသား၊ ဂေါဂတဖက်၌ပရော
ဖက်ပြု၍ အရှင်ထာဝရဘုရား၏ အမိန့်တော်ကို
ဆင့်ဆိုရမည်မှာ၊ ရောရှ၊ မေရှက်၊ တုဗလပြည်
တို့ကို အစိုးရသော ဖိုဂေါဂမင်း၊ ငါသည်သင့်
၂ တဖက်၌နေ၏။- သင့်ကိုငါလှည့်၍ သွေးဆောင်
မည်။ မြောက် ဖျက် နား မှ ရှိ လာ ၍ ဣသ ရေလ
၃ တောင်တို့ အပေါ်သို့ရောက်စေမည်။- ထို အခါ
သင့်လက်ဝဲလက်မှ လေးကိုငင်၊ လက်ျာလက်မှ
၄ မြားတို့ကိုငင်ငါရိုက်၍ကျစေမည်။-သင်နှင့်သင်
၌ပါသောတပ်သား အပေါင်း တို့သည် ဣသရေ
လတောင်တို့အပေါ်မှာ လဲ၍ သေကြ လိမ့်မည်။
သင့်ကိုအမျိုးမျိုးသောငှက်ရဲ၊ သားရဲတို့ကိုက်
၅ စားစရာဘို့ ငါအပ်မည်။- သင်သည် လွင်ပြင်၌
လဲ၍သေလိမ့်မည်။ ငါပြောပြီဟု၊ အရှင်ထာဝရ
၆ ဘုရား မိန့် တော်မူ၏။- မာဂေါဂ ပြည် နှင့် ပင်
လယ်ကမ်းနားမှာငြိမ်ဝပ်စွာနေသော သူတို့အ
ပေါ်သို့ မီးကို ငါလွှတ်လိုက်၍၊ ငါသည်ထာဝရ
၇ ဘုရားဖြစ်ကြောင်းကိုသိရကြလိမ့်မည်။-ထိုသို့
ငါ၏နာမမြတ်ကို ငါ၏လူဣသရေလအမျိုးသား
တို့ တွင် ထင် ရှား စေ မည်၊ နောက်တဖန် သူတို့
သည် ငါ၏နာမမြတ်ကို မရှုတ်ချရကြ။ ငါသည်
ဣသရေလအမျိုး၏ သန့်ရှင်း သောဘုရား၊ ထာ
ဝရဘုရား ဖြစ်ကြောင်းကိုတပါး အမျိုးသားတို့
သိရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၈ တဖန် အရှင်ထာဝရဘုရား မိန့်တော်မူသည်
ကား၊ အမှုရောက်လေပြီ၊ ပြည့်စုံလေပြီ၊ ယခုနေ့
ရက်သည် ငါမိန့်မြွက် နှင့် ပြီး သောနေ့ရက်ဖြစ်
၉ ၏။- ဣသရေလ မြို့တို့၌ နေ သော သူ တို့ သည်
ထွက်သွား၍၊ စစ်တိုက်ထက်နက်၊ ဒိုင်း၊ လွှား၊
လေး၊ မြား၊ ဒုတ်၊ လှံများကို ခုနစ်နှစ် ပတ်လုံးမီး
၁၀ ရှို့ကြလိမ့်မည်။- ထိုကာလတွင် ခုထည့်၌ထင်း

မခွေးတော၌မခုတ်မဘျည်း၊ စစ်တိုက်ထက်နက်
ထိုနှင့်မီးရှေးကြလိမ့်မည်၊ လုယက်ဆိုးသောသူတို့
ကို လုယက်ဆိုး ကြလိမ့်မည်၊ လုယူသော သူတို့၏
ဥစ္စာကိုလည်း လုယူကြလိမ့်မည်ဟု၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူ၏။
၁၁ ထိုကာလတွင် ဣသရေလ ပြည်၊ အိုင်အရှေ့၊
ခရီးသွားရာချိုင့်၌ ထင်ရှားသောသင်းချိုင်းကို
ဂေါဂအား ငါပေးမည်၊ ခရီးသွား သော သူတို့
သည် နှာခေါင်းကို ပိတ်ရကြလိမ့်မည်၊ ထိုအရပ်
၌ဂေါဂနှင့်သူ၏လူ အလုံးအရင်းရှိသမျှကိုမြေ၌
မြှုပ်၍၊ ထိုချိုင့်သည်ဟာမုန်ဂေါဂချိုင့် အမည်
၁၂ ဖြင့်တွင်လိမ့်မည်။- ဣသရေလအမျိုး သားတို့
သည်ပြည်ကို သန့်ရှင်းစေခြင်းငှါ ခုနစ်နှစ်ပတ်
၁၃ လုံးမြေ၌မြှုပ်ကြလိမ့်မည်။-ပြည်သားအပေါင်း
တို့သည် ပိုင်း၍ မြေ၌ မြှုပ်သဖြင့်၊ ငါ၏ ဘုန်းပွင့်
သောထိုနေ့ရက်၌ သူတို့သည်ထည်း ကျော်စော
ခြင်းသို့ ရောက် ကြလိမ့် မည်ဟု၊ အရှင် ထာဝရ
၁၄ ဘုရားမိန့်တော်မူ၏။-အရပ်ရပ်လှည့်လည်၍အ
ကြွင်းသောခရီးသည့်ကိုနှင့်ပိုင်းလျက်၊ မြေပေါ်၌
ကြွင်းသေးသော ... သကောင်တို့ကိုမြှုပ်၍၊ ထို
ပြည်ကို သန့်ရှင်း စေခြင်းငှါ အစည် အမှုဆောင်
သောသူတို့ကိုရွေးကောက်၍ခန့်ထားရကြလိမ့်
မည်၊ ထိုသူတို့သည် ခုနစ်လမကရှာ၍ ပြုကြစည်
၁၅ တွင်၊-လှည့်လည်၍ ခရီးသွားသောသူတို့သည်
အသေကောင်၏အရိုးကိုတွေ့မြင်လျှင်၊ မြေ၌မြှုပ်
သော သူတို့သည် ဟာမုန် ဂေါဂချိုင့်၌ မမြှုပ်မှီ
တိုင်အောင်၊ အရိုး၏အနားမှာမှတ်တိုင်ကို စိုက်
၁၆ ရကြမည်။-ထိုအရပ်၌တည်သောမြို့သည်လည်း
ဟာမုန်မြို့ဟူ၍ တွင်သဖြင့်၊ ထိုသို့ပြည်တော်ကို
သန့်ရှင်းစေကြလိမ့်မည်။
၁၇ အချင်းလူသား၊ အရှင်ထာဝရဘုရား၏ အမိန့်
တော်ကိုငှက်အမျိုးမျိုးတို့နှင့် မြေတိရိစ္ဆာန်ခပ်
သိမ်းတို့အားဆင့်ဆိုရမည်မှာ၊ စည်းဝေး၍လာ
ကြလော့၊ ဣသရေလတောင်တို့အပေါ်၌ သင်
တို့အဖို့ငါစီရင်သောယဇ်ပွဲကြီးသို့အရပ်ရပ်တို့
ကစည်းဝေး၍၊ အသားအသွေးကိုသောက်စား
၁၈ ခြင်းငှါ လာကြလော့။- သင်တို့သည် အားကြီး
သောသူတို့၏အသား၊ လောကီမင်းတို့၏အသွေး၊
ဗာရှန်ပြည်၌ဆူအောင်ကျွေးသောသိုးထီး၊ ဆိတ်
ထီး၊ နွားထီး ဥသဘ တို့၏အသား အသွေးကို
၁၉ သောက်စားရကြလိမ့်မည်။-သင်တို့အဖို့ငါစီရင်
သောယဇ်ပွဲ၌ ဆီဥကိုဝစွာစားရကြလိမ့်မည်၊
အသွေးနှင့် ယစ်မူးသည့် တိုင်အောင် သောက်ရ
၂၀ ကြလိမ့်မည်။-ထိုသို့စားပွဲ၌ မြင်း၊ မြင်းစီးသူရဲ၊
ခွန်အားကြီးသောသူ၊ စစ်တိုက်သော သူအမျိုး
မျိုးတို့ကို ဝစွာစားရကြလိမ့်မည်ဟု၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူ၏။
၂၁ ဘုန်းကိုလည်း တပါးအမျိုးသားတို့တွင်ငါ
ထင်ရှားစေ၍၊ ငါစီရင်သောတရားမှုနှင့်၊ သူတို့၌
ငါတင်သောလက်ကိုတပါးအမျိုးသားအပေါင်း
၂၂ တို့သည် မြင်ရကြလိမ့်မည်။- ငါ သည် သူတို့၏
ဘုရားသခင်ထာဝရဘုရားဖြစ်ကြောင်းကိုဣသ
ရေလအမျိုးသားတို့သည် ထိုနေ့မှစ၍ သိရကြ
၂၃ လိမ့်မည်။- ဣသရေလအမျိုးသားတို့သည် မိမိ
အမျိုး ထို့ အပြစ် ကြောင့် သိမ်း သွား ခြင်း ခံ ရ
ကြောင်းကို တပါးအမျိုးသားတို့သည် သိရကြ
လိမ့်မည်၊ ငါကိုပြစ်မှားသောကြောင့်၊ ငါသည်
မျက်နှာလွှဲ၍ ရန်သူတို့ လက်သို့အပ်သဖြင့်၊ ထို
လူအပေါင်းတို့သည်ထားဖြင့်ထိ၍သေရကြပြီ။-
၂၄ သူတို့ညစ်ညူးသောအမှု၊ လွန်ကျူးခြင်းအမှုတို့
၂၅ အတိုင်းငါသည်ပြု၍မျက်နှာကိုလွှဲပြီ။- ဤအမှု
တွင်အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊
သိမ်းသွားခြင်းကို ခံရသော ယာကုပ်အမျိုးကို
ငါတဖန် ဆောင်ခဲ့၍၊ ဣသရေလအမျိုးသားအ
ပေါင်းတို့ကိုကယ်မသနား၊ သဖြင့်၊ ငါ၏နာမဖြစ်
၂၆ အဖို့ အလိုငှါ စိတ်အားကြီးမည်၊- သူတို့ကို လူ
၂၇ အမျိုးမျိုးထဲက ငါခေါ်ခဲ့၍- ရန်သူနေရာ ပြည်
တို့မှ စုဝေးစေလျက်၊ သူတို့ အားဖြင့် များ စွာ
သော လူမျိုးတို့ရှေ့မှာ ငါသည် ရှိုးမြော်ထ်ခြင်း
သို့ ရောက်သော အခါ၊ သူတို့သည် ကြောက်စေ
သောသူမရှိ၊ ငြိမ်ဝပ်စွာ နေကြစည်တွင် ခံရသော
သောအရှက်ကွဲခြင်းနှင့်၊ ငါ့အားပြစ်မှားခြင်းအ
၂၈ ပြစ်များကိုဆောင်းမေ့ရကြလိမ့်မည်။-ငါသည်
သူတို့ကိုတပါးအမျိုးသားတို့၏ သိမ်းသွားခြင်း
ကို ခံစေသောကြောင့်၎င်း၊ နောက်တဖန် နေရင်း
ပြည်၌ စုဝေးစေ၍ နေရာချသောကြောင့်၎င်း၊ သူ
တို့၏ဘုရားသခင်ထာဝရဘုရားဖြစ်ကြောင်းကို
၂၉ သိရကြလိမ့်မည်။- ငါသည် ကိုယ် ဝိညာဉ် ကို
ဣသရေလ အမျိုးသား အပေါ်သို့ သွန်းလောင်း
သောအခါ၊ သူတို့တွင် တယောက်ကိုမျှ နောက်
တဖန်ငါမစွန့်ပြစ်၊ မျက်နှာကိုလည်း မလွှဲဟု
အရှင်ထာဝရဘုရားမိန့်တော်မူ၏။

၄၀

၁ ငါတို့သည်သိမ်းသွားခြင်းကိုခံရသည်နှစ်

နှစ်ဆယ်ငါးနှစ်၊ပဌမလဆယ်ရက်နေ့၊မြို့တော်ကို
လုပ်ကြံ၍၊ တဆယ်လေးနှစ် မြောက်သောနေ့တွင်၊
ထာဝရဘုရား၏ လက်တော်သည် ငါ့အပေါ်မှာရှိ
၂ ၍ထိုမြို့သို့ဆောင်သွားတော်မူ၏။- ဘုရားသခင်
၏ဗျာဒိတ်ရူပါရုံအားဖြင့် ငါ့ကို ဣသရေလ ပြည်
သို့ဆောင်သွား၍၊အလွန်မြင့်သောတောင်ပေါ်
မှာ တင် ထား တော် မူ ၏။ ထို တောင် အနား မှာ
၃ တောင်ဘက်၌မြို့ပုံသဏ္ဌာန်ရှိ၏။- ထိုအရပ်သို့
ငါ့ကိုဆောင်သွားတော်မူသောအခါ၊ကြေးဝါကဲ့
သို့အဆင်းအရောင်ရှိသော လူတဦးသည် တိုင်း
စရာကြိုးလုံးနှင့်ခြည်ကြိုးကိုကိုင်လျက်မြို့တံခါး
၄ ဝမှာရပ်နေ၏။- ထိုသူက၊အချင်းလူသား၊မျှော်မျှော်
ကြည့်ရှုလော့၊ မျှော်မျှော်နားထောင်လော့၊ ငါပြလ
တံ့သမျှတို့ကို နှစ်လုံးသွင်းလော့၊ သင့်အားငါပြ
အံ့သောငှါသင့်ကို ဤအရပ်သို့ ဆောင်ခဲ့တော်မူ
ပြီ။မြင်သမျှတို့ကိုလည်း ဣသရေလအမျိုးအား
ပြရမည်ဟုဆို၏။
၅ အိမ်တော်ပြင်ပတ်လည်၌ တန်တိုင်းရှိ၏။ ထို
သူသည် သံတောင် အား ဖြင့် အရှည် ခြောက်
တောင်ရှိသော ကျူလုံးကို ကိုင်လျက်၊ ထိုတန်
တိုင်းကိုတိုင်း၍အထု ကျူတပြန်၊အမြင့်လည်း
၆ ကျူတပြန်ရှိ၏။-ထိုနောက်၊အရှေ့တံခါးသို့သွား
၍လှေကားကိုတက်ပြီးမှ၊ တံခါးထုပ်နှင့်တံခါး
၇ နံ့ကိုတိုင်း၍အနံကျူတပြန်စီရှိ၏။-အခန်းငယ်
တို့သည်တခန်းနှင့်တခန်း ငါးတောင်ကွာလျက်
အလျား ကျူတပြန်၊ အနံ လည်း ကျူ တပြန်စီရှိ
၈ ကြ၏။- အတွင်းတံခါးနံ့လည်း အနံကျူတပြန်
၉ ရှိ၏။- တံခါးမုတ်ကိုလည်းတိုင်း၍ အလျားရှစ်
တောင်ရှိ၏။ မုတ်တိုင် အမြင့် နှစ်တောင် စီ ရှိ၏။
တံခါး မုတ် သည် တံခါး အတွင်း ထက်၌ ရှိသ
၁၀ တည်း။- အရှေ့တံခါး တဖက်တချက်၌ အခန်း
ငယ်သုံးခန်းစီရှိ၍၊အလျားအနံတညီတည်း၊တ
ဖက် တချက်၌ တိုင် အမြင့် လည်း တညီ တည်း
၁၁ ရှိကြ၏။- တံခါးဝကိုလည်း တိုင်း၍ အနံ ဆယ်
၁၂ တောင်၊အမြင့်တဆယ်သုံးတောင်ရှိ၏။-အခန်း
ငယ်တို့ရှေ့မှာ တဖက်တချက်၌ကြမ်းပြင်အနံတ
တောင်ရှိ၏။တဖက်တချက်၌ရှိသောအခန်းငယ်
၁၃ တို့သည်အလျားအနံခြောက်တောင်စီရှိ၏။- ထို
နောက်၊ အ ခန်း ငယ် အ မိုး စွန်း တ ခု မှ သည်
တခုတိုင်အောင် တိုင်း၍ အကျယ် နှစ်ဆယ်ငါး
တောင်ရှိ၏။တံခါးတို့သည်မျက်နှာချင်းဆိုင်ကြ
၁၄ ၏။- တံခါးပတ်ထည်တန်တိုင်းအတွင်း၊ လောင့်

တိုင်အထိ၊အတောင်ခြောက်ဆယ်ကျယ်အောင်
၁၅ တိုင်များကို ထား လေ၏။- ပြင်တံခါးဝမှ သည်
အတွင်း တံခါးမုတ်ဝ တိုင်အောင် အတောင်ငါး
၁၆ ဆယ်ရှိ၏။- အခန်း များ၊ တံခါး အတွင်း ပတ်
လည်တိုင်များ၊ တံခါးမုတ်များ အတွင်းထက်၌
ကျဉ်းသောပြတင်းပေါက်များရှိ၏၊ တိုင်များ၌
စွန်ပလွံပင်ပုံထုလျက်ရှိ၏။
၁၇ ထိုနောက်၊ငါ့ကိုပြင်တန်တိုင်းထဲသို့သွင်း၍အ
ခန်းများကို ငါမြင်၏၊ ကျောက် ခင်းလည်းရှိ၏။
၁၈ ကျောက်ခင်းအပေါ်မှာအခန်းသုံးဆယ်ရှိ၏။-ထံ
ခါးများအစဉ်အတိုင်းလိုက်၍၊ တံခါးအနားမှာ
ရှိသော ကျောက် ခင်း သည် အောက် ကျောက်
၁၉ ခင်းဖြစ်၏။-ထိုနောက်၊အောက်တံခါးဦးမှသည်
အတွင်းတန်တိုင်းပြင်ဘက်ဦးတိုင်အောင် တိုင်း
၍၊အရှေ့မျက်နှာ၌အတောင်တရာကွာ၏။
၂၀ တဖန်မြောက်မျက်နှာသို့ခေါ်သွား၍၊ပြင်တန်
တိုင်းမြောက်ဘက်သို့မျက်နှာပြုသောတံခါးအ
၂၁ မြင့်နှင့်အနံကိုတိုင်းလေ၏။- အခန်းတို့သည်တ
ဖက်တချက်၌သုံးခန်းစီရှိ၏။ တိုင်များ၊ မုတ်များ
တို့သည် အရင်တံခါး ကဲ့သို့ ဖြစ်၍၊ အလျား အ
တောင်ငါးဆယ်၊အနံနှစ်ဆယ်ငါးတောင်ရှိ၏။-
၂၂ ပြတင်းပေါက်၊မုတ်၊စွန်ပလွံပင်များတို့သည်အ
ရှေ့တံခါး ကဲ့သို့ ဖြစ်ကြ၏။ လှေကား ခုနစ်ထစ်
ဖြင့် တံခါးသို့တက်ရ၏၊ မုတ်တို့သည် လှေကား
၂၃ နှင့် တတန်းတည်းရှိကြ၏။- အရှေ့ဘက်၌ ရှိသ
ကဲ့သို့ မြောက် တံခါး မျက်နှာချင်းဆိုင် အတွင်း
တန်တိုင်းတံခါးဝရှိ၏။ တံခါးဝတရာနှင့်တခု အ
တောင်တရာကွာ၏။
၂၄ ထို နောက်၊ တောင် မျက် နှာသို့ ခေါ်သွား၍
တောင်တံခါးကိုငါမြင်၏၊တိုင်များ၊ မုတ်များကို
တိုင်း၍ အရင်ပမာဏနှင့်တညီတည်းရှိကြ၏။-
၂၅ အရင်ပြတင်းပေါက်ကဲ့သို့ ပြတင်းပေါက် များ၊
မုတ်များရှိ၍၊ အလျား အတောင်ငါးဆယ်၊ အနံ
၂၆ နှစ်ဆယ် ငါးတောင် ရှိ၏။- လှေကား ခုနစ်ထစ်
ဖြင့် တံခါးသို့တက်ရ၏၊ မုတ်တို့သည် လှေကား
နှင့် တတန်းတည်းရှိကြ၏၊ တဖက်တချက် တိုင်
၂၇ များ၌ စွန်ပလွံပင်ပုံထုလျက်ရှိ၏။- တောင်မျက်
နှာ၌အတွင်းတန်တိုင်းတံခါးဝရှိ၏၊ထိုမျက်နှာ
၌တံခါးဝတခုမှသည် တခုတိုင်အောင် တိုင်း၍
အတောင်တရာကွာ၏။
၂၈ တဖန် အတွင်းတန်တိုင်းထဲသို့ တောင်တံခါး
ဖြင့်သွင်း၍၊အရင်ပမာဏနှင့်အညီထိုတံခါးကို

၂၉ ထိုင်းသော— အခန်းငယ်များ၊ တိုင်များ၊ မုတ်
များထိုသည် အရင်ပမာဏနှင့် တညီတည်း ရှိ
ကြ၏၊ တံခါး၀ပတ်လည်၌၎င်း၊ မုတ်များ၌၎င်း ပြ
တင်းပေါက်ရှိ၍၊ အလျားအတောင်ငါးဆယ်၊
၃၀ အနံ နှစ်ဆယ်ငါးတောင် ရှိ၏— ပတ်လည်၌ ရှိ
သောမုတ်တို့သည်လည်း အလျားအတောင် နှစ်
၃၁ ဆယ်ငါးတောင်၊ အနံ ငါးတောင်ရှိ၏— မုတ်ထို
သည်ပြင်တန်တိုင်းသို့မျက်နှာပြု၍၊ တိုင်များအ
ပေါ်မှာစွန်ပလွံပင် ပုံထုလျက်ရှိ၏၊ လှေကားရှစ်
ထစ်ဖြင့်တက်ရ၏။
၃၂ အရှေ့ထက်၌ ထည်းအတွင်းတန်တိုင်းထဲသို့
သွင်း၍၊ ထိုတံခါးကို အရင် ပမာဏ နှင့် အညီ
၃၃ တိုင်းသော— အခန်းငယ်များ၊ တိုင်များ၊ မုတ်
များ ထိုသည် အရင်ပမာဏ နှင့် တညီတည်း ရှိ
ကြ၏၊ တံခါး၀ပတ်လည်၌၎င်း၊ မုတ်များ၌၎င်းပြ
တင်းပေါက်ရှိ၍၊ အလျား အတောင် ငါးဆယ်၊
၃၄ အနံ နှစ်ဆယ်ငါးတောင်ရှိ၏— မုတ်ထိုသည်ပြင်
တန်တိုင်းသို့ မျက်နှာပြု၍၊ တဖက် တချက် တိုင်
များအပေါ်မှာ စွန်ပလွံပင် ပုံထုလျက်ရှိ၏၊ လှေ
ကားရှစ်ထစ်ဖြင့်တက်ရ၏။
၃၅ တဖန် မြောက် တံခါး သို့ ခေါ်သွား၍ အရင်
၃၆ ပမာဏနှင့် အညီတိုင်းသော— အခန်းငယ်များ၊
တိုင်များ၊ မုတ်များ၊ ပတ်လည်၌ ပြတင်းပေါက်
များ ထို့ နှင့် ပြည့်စုံ၍၊ အလျား အတောင် ငါး
၃၇ ဆယ်၊ အနံ နှစ် ဆယ် ငါး တောင် ရှိ၏— မုတ် ထို
သည် ပြင်တန်တိုင်းသို့ မျက် နှာပြု၍၊ တဖက် တ
ချက်တိုင်များအပေါ်မှာစွန်ပလွံပင်ပုံထုလျက်ရှိ
၃၈ ၏၊ လှေကားရှစ်ထစ်ဖြင့်တက်ရ၏— မီးရှို့သော
ယဇ်ကောင်ကို ရေနှင့် ဆေး ကြော စရာ အခန်း
များ၊ အခန်း၀င်၀များ ထိုသည် ထိုတံခါးမုတ်၌
ရှိကြ၏။
၃၉ မီးရှို့ရာယဇ်၊ အပြစ်ဖြေရာယဇ်၊ ဒုစရိုက်ဖြေ
ရာယဇ်ကောင်ကို သတ်စရာဖို့၊ တံခါးမုတ် အ
တွင်း တဖက် တချက်၌ စားပွဲ နှစ်ခု စီ ရှိကြ ၏—
၄၀ မြောက် တံခါး၀သို့ တက်ရာတံခါးမုတ်၊ ပြင်အ
နားတဖက်တချက်၌လည်း စားပွဲနှစ်ခုစီရှိသည်
၄၁ ဖြစ်၍၊— တံခါး၀ တဖက်တချက်၌ ယဇ်ကောင်
ကို သတ်စရာ စားပွဲလေးခုစီ၊ ပေါင်း ရှစ်ခုရှိကြ
၏— မီးရှို့ရာယဇ်တို့စားပွဲလေးခုထိုသည် ဆစ်
သောကျောက်ဖြင့်ပြီး၍၊ အလျားတတောင်တ
ထွာ၊ အနံတတောင်တထွာ၊ အမြင့် တတောင်ရှိ
၏၊ ထိုစားပွဲပေါ်မှာမီးရှို့ရာယဇ်ကောင်ကိုသတ်

၄၃ ရောတန်ဆာများကိုတင်ထားရကြ၏—စားပွဲအ
ပေါ်ပတ်လည်၌အကျယ်တထွာရှိသောအ
နားပတ်တစ်လျက်ရှိ၍၊ ပူဇော်စရာ ယဇ်သား
ကိုတင်ထားရကြ၏။
၄၄ အတွင်းတံခါးပြင်မှာ အတွင်းတန်တိုင်း၌ အ
ခန်းနှစ်ခုကိုငါမြင်၏၊ တခန်းကား မြောက်တံခါး
အနားမှာရှိ၍ တောင်ထက်သို့မျက်နှာပြု၏၊ တ
ခန်းကား၊ တောင် တံခါး အနားမှာရှိ၍ မြောက်
၄၅ ထက်သို့မျက်နှာပြု၏—တောင်ထက်သို့ မျက်နှာ
ပြုသော ဤအခန်းကား၊ ဗိမာန်တော်အမှုကိုဆောင်
၄၆ သောယဇ်ပုရောဟိတ်နေစရာ ဖြစ်၏—မြောက်ထက်
သို့ မျက်နှာပြုသော ဤအခန်းကား၊ ယဇ်ပလ္လင်
အမှုကို ဆောင်သောယဇ်ပုရောဟိတ်နေစရာဖြ
စ်၏၊ ထိုသူတို့ကား၊ လေဝိအမျိုးသားထဲတွင်ထာဝ
ရဘုရားထံတော်သို့ ချဉ်းကပ်၍ အမှုတော် ကို ဆောင်ရ ခြင်း ငှါ၊
ဇာဒုတ် သား တို့တွင် ရွေး ကောက် သော သားမြ
သားပေတည်းဟုငါ့အားပြောဆို၏။
၄၇ ထိုအခါ တန် တိုင်း ကို တိုင်း၍ အ လျား အ
တောင်တရာ၊ အနံ အတောင်တရာ၊ စတုရန်းရှိ၏၊
ယဇ် ပလ္လင် သည် ဗိမ်တော် ရှေ့မှာ ထည်၏—
၄၈ ဗိမ်တော်ဦးသို့ ခေါ်၍တံခါး၀နှစ်ဖက်ကို တိုင်း
လျှင်၊ အကျယ်ငါးတောင်စီရှိ၏၊ တံခါးအကျယ် နှစ်
၄၉ ဖက်၊ အနံ သုံးတောင် စီရှိ၏— ဗိမ်တော် ဦး အ
လျား ကား အတောင် နှစ် ဆယ်၊ အနံကား တ
ဆယ် တတောင် ရှိ၏၊ လှေ ကား ဆယ်ထစ် ဖြင့်
တက်ရ၏၊ဗိမ်တော်ဦးအနား တဖက်တချက်၌
တိုင်တလုံးစီတည်လျက်ရှိ၏။

၄၁

၁ ထိုနောက်မှဗိမာန်တော်သို့ခေါ်၍တံခါးတိုင်
တို့ကို တိုင်းလျှင်၊ နှစ်ဖက်၌တံခါး တိုင် ရှိသည်
ဗိမာန်တော် ရှိနှင့် အမျှ ခြောက် တောင် ရှိ၏—
၂ ဗိမာန် တော် တံ ခါး ၀ အ ကျယ် ကား ဆယ်
တောင်ရှိ၏၊တံခါး၀တဖက်နှင့်တဖက်ထည်ငါး
တောင်စီကျယ်၏၊ ဗိမာန်တော်ကို တိုင်း၍၊ အ
လျားကား အတောင်လေးဆယ်၊ အနံကား အ
၃ တောင်နှစ်ဆယ်ရှိ၏—ထိုနောက်၊ အထဲသို့ဝင်၍
အရာရာထို့ကိုတိုင်းလျှင်၊တံခါးတိုင် နှစ်တောင်၊
တံခါး၀ခြောက်တောင်၊တံခါး၀တဖက်တချက်
၄ ခုနှစ်တောင်စီ ရှိ၏— ထို အခန်း သည် ဗိမာန်
တော်အနံနှင့်တညီတည်းဖြစ်လျက်၊ အလျားအ
တောင်နှစ်ဆယ်၊အနံလည်းအတောင်နှစ်ဆယ်
၅ ရှိသည်ကိုတိုင်း၍၊ ဤ [illegible] ဟုဆို

၅ ရှစ်ရောဗ္ဗာန်မြစ်သည်တ ငဆောအပြောဆိုရ၏၊- ထို
နောက်၊ ဖိမ်တော်ထရံကိုတိုင်း၍အထု ခြောက်
တောင်ရှိ၏၊ဖိမ်တော်ပတ်လည် ထရံအခန်းတို့
၆ သည် အနံလေးတောင် စီရှိ၏၊- ထရံ အခန်း တို့
သည် အစည်အတိုင်းသုံးဆယ်၊ အဆင့်သုံးဆင့်
ပေါင်း၊ သုံးဆယ် သုံးထီ ရှိကြ၏၊ ထို အ ခန်းတို့
သည်ဖိမ်တော်ထရံထဲသို့မဝင်ဘဲ ထရံအောက်
၇ မိုင်းလွတ်သောခြေအပေါ်မှာမှီနေကြ၏၊- ထရံ
အခန်း အောက် ဆင့်မှသည် ဒုတိယ အဆင့် သို့
၎င်း၊ ဒုတိယအဆင့်မှသည် တတိယ အဆင့်သို့
၎င်းတက် သည် အတိုင်း၊ ဖိမ်တော် ထရံ ပတ်
လည်တရှောက်လုံးဆက်ကာဆက်ကာရုတ်၍၊
အခန်း ရေရာသည် အစည်အတိုင်း ကျယ်လျက်
၈ အဆင့်ဆင့် တက်၏၊- ဖိမ်တော် အထက် ပိုင်း
ပတ်လည်၌အမြင့်ဆုံးသောထရံအခန်းတို့သည်
ခြောက် တောင် ရှည် သော ကျူ တပြန်မှ ကျယ်
၉ ကြ၏၊- ထရံ အခန်း ပြင်ထက် ၌ ကာသောထရံ
သည် အထုငါးတောင်ရှိ၏၊ ကျန်ကြွင်းသောအ
၁၀ ရပ်သည်ထရံအခန်းဟို့နှင့်ဆိုင်၏၊- ဖိမ်ကော်
ပတ်လည်၌ထရံအခန်းတို့သည် ဖိမ်တော်ဟန်
တိုင်းအခန်းတို့နှင့်အတောင်နှစ်ဆယ်ကွာလျက်
၁၁ ရှိကြ၏၊- ထရံအခန်းတံခါးတို့သည်ကျန်ကြွင်း
သောအရပ်သို့ဖွင့်၍မြောက်ထက်သို့၎င်း၊တောင်
ထက်သို့၎င်းမျက်နှာပြုကြ၏၊ ကျန်ကြွင်းသောအ
ရပ်သည်ပတ်လည်၌အနံငါးတောင်ရှိ၏၊
၁၂ လွတ် ထပ် သော အ ရပ်ကို မိတ်၍ အနောက်
ထက်၌ရှိသောတန်တိုင်းသည်အလျားအတောင်
ခုနှစ်ဆယ်ရှိ၍၊ ဖိမ်တော်ပတ်လည် တန်တိုင်း
သည်လည်း အထုငါးတောင်၊အလျားအတောင်
၁၃ ကိုးဆယ်ရှိ၏၊-ထိုသို့ဖိမ်တော်ကိုတိုင်း၍လွတ်
ထပ်သောအရပ်၊ ဖိမ်တော်ထရံ၊ တန်တိုင်းပါ
၁၄ လျက်အလျားအတောင်တရာရှိ၏၊-အရှေ့မျက်
နှာ၌လွတ်ထပ်သောအရပ်ပါလျက်၊ ဖိမ်တော်
ဦးအတိုင်းအရှည်လည်း အတောင်တရာရှိ၏၊-
၁၅ လွတ်ထပ်သောအရပ်၌ကာသောရှေ့တန်တိုင်း
နှင့်နောက်တန်တိုင်းကိုတိုင်း၍၊ တဖက်တချက်
၌ရှိသောထရံအခန်းပါလျက်အလျားအတောင်
တရာရှိ၏၊
၁၆ အတွင်းမိတ်မှန်နှင့်တန်တိုင်းဓုတ်များ၊တံခါး
ခုံများ၊ကျဉ်းသောပြတင်းပေါက်များ၊ တံခါးခုံ
ရှိသမျှ တဖက် တချက် သုံးဆင့် ရှိသော ထရံအ
ခန်း နံရံ များတို့သည် မြေမှ ပြတင်းပေါက် တိုင်

အောင် ပျဉ်ပြား နှင့် ခုံးရှောစ် ရှုထ် ရှိကြ၏၊ ပြ
တင်းပေါက် ၎င်းသည်လည်း ကွယ်ကာရှုထ် ရှိ
ကြ၏၊
၁၇ တံခါးပေါက် ရှိသမျှ အထက်၊ အတွင်း မိတ်
မှန်ပြင်ထက်၊ ဖိမ်တော် အတွင်း၊ ပြင် ထရံ ပတ်
၁၈ လည်၌ ခေရုဗိမ်နှင့် စွန်ပလွံပင် ပုံထု၍၊- ခေရု
ဗိမ်နှစ်ခု ကြားမှာ စွန်ပလွံပင် တခုစီရှိ၏၊ ခေရု
၁၉ ဗိမ်တခု၌မျက်နှာနှစ်ခုစီပါလျက်၊- စွန်ပလွံပင်
နှစ်ခု ကြားမှာ တဖက်၌ လူ မျက်နှာ၊ တဖက်၌
၂၀ ခြင်္သေ့ မျက်နှာကို ပြုကြ၏၊- ထိုသို့ ဖိမ် တော်
ပတ်လည်၊ မြေမှ သည် တံခါး ပေါက် အထက်
တိုင်အောင်မိတ်မှန်တော်ထရံ၌ခေရုဗိမ်နှင့်စွန်
၂၁ ပလွံပင် အရုပ် ထု လျက် ရှိ၏၊- မိတ် မှန် တော်
တိုင် တို့သည် လေးထောင့်ဖြစ်ကြ၏၊ သန့်ရှင်း
၂၂ ရာ ဌာန နှင့် မျက် နှာ ချင်း တူ ကြ၏၊- သစ်သား
ထပ်ပလ္လင် သည် အမြင့် သုံးတောင်၊ အလျား
နှစ်တောင်၊ အနံ နှစ်တောင်ရှိ၏၊ ပလ္လင်ထောင့်၊
အိုးစပ်၊ နံရံတို့သည်သစ်သား ဖြင့်ပြီးကြ၏၊ ဤသေး
ပွဲကား၊ ထာဝရဘုရား ရှေ့တော်မှာ တင်သော
စားပွဲပေတည်းဟု ငအားပြောဆို၏၊
၂၃ မိတ်မှန် တော် နှင့် သန့်ရှင်း ရာ ဌာန ၌ တံခါး
၂၄ ပေါက်တပေါက်စီရှိ၍၊- တံခါး တို့သည်လည်း
၂၅ တပ်သော တံခါး ရွက် နှစ်ရွက်စီရှိ၏၊- မိတ်မှန်
တော်ထရံ၌ထုသကဲ့သို့တံခါးရွက်တို့၌ခေရုဗိမ်
နှင့်စွန်ပလွံပင်ပုံထုလျက်ရှိ၏၊ ဓုတ်ဦး အထက်
၂၆ မှာ ထုပ်တင်လျက်ရှိ၏၊- ဓုတ်နံရံ၊ဖိမ်တော်အ
ခန်း၊ထရံတို့သည်ထုပ်များ၊ ကျဉ်းသောပြတင်း
ပေါက်များ၊စွန်ပလွံပင်များနှင့်ပြည့်စုံကြ၏၊

၄၂

၁ ထိုနောက်မှမြောက်ထမ်းမြင့်ပြင်တန်တိုင်းထဲ
သို့ ခေါ်သွား၍၊ ဖိမ်တော်မြောက်ထက်၊ လွတ်
ထပ်သောအရပ်ရှေ့မှာရှိသောအခန်းများကိုပြ
၂ လေ၏၊- ထိုအခန်းတို့သည် မြောက် တံခါး၊ အ
ထိ၊ အလျားအတောင်တရာ၊ အနံအတောင်ငါး
၃ ဆယ်ရှိကြ၏၊- အတောင် နှစ်ဆယ် ရှိ သောအ
တွင်းတန်တိုင်းရှေ့၊ ပြင်တန်တိုင်း၊ ကျောက်ခင်း
ရှေ့တွင် တဖတ်တချက်၌ နံရံအခန်း သုံးဆင့် ရှိ
၄ ၏၊- ထိုအခန်းများရှေ့မှာ တတောင်ကျယ်သော
ထမ်းနှင့်တကွ အတွင်းထက်သို့ဝင်၍၊အနံဆယ်
တောင်ရှိသော စကြံရှိ၏၊ အခန်းတံခါး တို့သည်
၅ မြောက်ထက်သို့မျက်နှာပြုကြ၏၊-အထက်ခန်း
တို့ သည် ကျဉ်း ကြ၏၊ သူတို့ ကြမ်း ပြင် ထည်

အောက်ခန်း ကြမ်းပြင်၊ အလယ်ခန်း ကြမ်းပြင်
၆ နှင့်မညီ၊ အထဲသို့ဝင်လျှောက်ကြ၏။ အကြောင်း
မူကား၊ အခန်းသုံးဆင့်ရှိသော်လည်း၊ ထိုအခန်း
တို့သည်အခြား၊ တန်တိုင်းကဲ့သို့တိုင်မရှိ၊ သို့ဖြစ်
၍၊ အောက်ခန်းနှင့် အလယ် ခန်း ထက် သာ၍
၇ ကျဉ်းကြ၏။ ထို အခန်းများ တဖက် တချက်၊
ပြင် တန် တိုင်း ထက်မှာ အခန်း များ ရှေ့၌ ကာ
ထားရသည်အလျား အတောင်ငါးဆယ်ရှိ၏။
၈ ပြင်တန်တိုင်းနှင့် ဆိုင်သော အခန်းတို့သည် အ
လျား အတောင်ငါးဆယ်ရှိကြ၏၊ ဗိမာန်တော်
၉ ရှေ့မှာ အလျားသည် အတောင်တရာရှိ၏။ ပြင်
တန်တိုင်းမှထ၍၊ ထိုအခန်းများခြေရင်း အရှေ့
၁၀ ထက်၌ ဝင် ရာ ထမ်း ရှိ၏။ ဗိမာန် တော် တောင်
ထက်၊ လွတ်ထစ်သော အရပ်ကို ကာသောတန်
၁၁ တိုင်းရဲ့ရှိ၌သည်၊ အခန်းများရှိကြ၏။ ထိုအခန်း
စုရှေ့မှာ ရှိသော စင်္ကြံမှစ၍ အခန်း အလျားအနံ၊
ထွက်ရာဝင်ရာတံခါးရှိသမျှတို့သည်မြောက်အ
၁၂ ခန်းစုနှင့် ပုံသဏ္ဌာန်တူကြ၏။ တောင်ခန်းတံ
ခါးတို့သည်လည်း၊ မြောက်ခန်းတံခါးတို့နှင့်တူ
သည်ဖြစ်၍၊ တန်တိုင်းတဖက်တချက်၊ အရှေ့သို့
မျက်နှာပြုသော စင်္ကြံဦး၌ ဝင်ရာတံခါးဝရှိ၏။
၁၃ ထိုင်းသောသူကလည်း၊ လွတ်ထစ်သော အ
ရပ်ရှေ့မှာ မြောက် ခန်းနှင့် တောင် ခန်းတို့သည်
သန့်ရှင်း သော အခန်း၊ ထာဝရ ဘုရား ထံတော်
သို့ချဉ်းကပ်သော ယဇ်ပုရောဟိတ်တို့သည် အ
ဖွန် သန့်ရှင်းသော အရာများကို စားရသော အ
ခန်း ဖြစ်ကြ၏၊ ထို အရပ် သည် သန့်ရှင်းသော
ကြောင့်အလွန်သန့်ရှင်းသောအရာ၊ ဘောဇဉ်
ပူဇော်သက္ကာ၊ အပြစ်ဖြေရာယဇ်၊ ဒုစရိုက်ဖြေ
၁၄ ရာယဇ်တို့ကိုထားရာအရပ်ဖြစ်၏။ ယဇ်ပုရော
ဟိတ်တို့သည် ဝင်သောအခါ အမှုတော်ဆောင်
အဝတ်ကို ဝတ်လျက်၊ သန့် ရှင်း သော အရပ်မှ
ပြင်တန်တိုင်းသို့ မထွက်ရ၊ ထိုအဝတ် သန့်ရှင်း
သောကြောင့် ချွတ်ထား၍ အခြားသော အဝတ်
ကို ဝတ်ပြီးမှ၊ လူများ ရှိရာသို့ ထွက် သွား ရကြ
မည်ဟု ငါ့အားပြောဆို၏။
၁၅ အတွင်းဗိမာန်တော်ကိုတိုင်းပြီးသဖြင့်နောက်၊
၁၆ အရှေ့တံခါးပြင်သို့ခေါ်သွား၍၊- တိုင်းစရာကျူ
လုံးနှင့် အရှေ့မျက်နှာကိုတိုင်းလျှင် ကျူလုံး အ
၁၇ ပြန်ငါးရာ ရှိ၏။- မြောက် မျက်နှာကို တိုင်းလျှင်
၁၈ လည်း ကျူလုံးအပြန်ငါးရာရှိ၏။- တောင်မျက်
နှာကိုတိုင်းလျှင်လည်းကျူလုံးအပြန် ငါးရာရှိ
၁၉ ၏။- အနောက်မျက်နှာကိုတိုင်းလျှင်လည်းကျူ
၂၀ လုံးအပြန်ငါးရာရှိ၏။- လေးမျက်နှာကို တိုင်း၍
ဝတ်သည်၌ရှိသောတန်တိုင်းသည်သန့်ရှင်းသော
အရပ်၊ မသန့်ရှင်း သော အရပ် တို့ကို ပိုင်းခြား
လျက်၊ အလျားအပြန်ငါးရာ၊ အနံလည်းအပြန်
ငါးရာရှိ၏။

၄၃

၁ ထိုနောက်မှ အရှေ့ ထက်သို့ မျက်နှာ ပြုသော
၂ တံခါးဝသို့တဖန်ခေါ်သွား၏။- ဣသရေလအမျိုး
၏ ဘုရားသခင် ဘုန်းတော်သည် အရှေ့ မျက်နှာ
မှလာ၍၊ အသံသည် ရေများ အသံကဲ့သို့ ဖြစ် ၏။
မြေကြီး သည် ဘုန်း တော် အားဖြင့် ထွန်းလင်း
၃ ၏။-ငါမြင်သောရူပါရုံသည်မြို့တော်ကိုဖျက်ဆီး
ခြင်းငှါလာသောအခါ၊ငါမြင်သောရူပါရုံ နှင့်တူ
၏၊ ထိုရူပါရုံ တို့သည် ခေဗာမြစ်နားမှာ
ငါမြင်ရသော အရာများကဲ့သို့ဖြစ်၍၊ ငါသည်
၄ ပြပ် ဝပ် လျက် နေ၏။- ထာဝရဘုရား၏ ဘုန်း
တော်သည် အရှေ့ထက်သို့ မျက်နှာပြုသော တံ
၅ ခါးလမ်းဖြင့်ဗိမာန်တော်ထဲသို့ဝင်တော်မူ၏။-ထို
အခါ ဝိညာဉ်တော်သည် ငါ့ကို ချီလျက် အတွင်း
တန်တိုင်းထဲသို့ ဆောင်သွား၍၊ ထာဝရဘုရား
၏ ဘုန်း တော်သည် ဗိမာန်လုံးကို ပြည့် တော်
၆ မူ၏။- အရင်လူသည် ငါ့ အနားမှာ ရပ်နေလျက်၊
ဗိမာန်တော်ထဲက ငါ့အားမိန့်တော်မူသော အသံကို
၇ ငါကြားသည်ကား၊- အချင်းလူသား၊ ဤအရပ်
သည်ငါ့ပလ္လင်တည်ရာအရပ်၊ငါ့ခြေဖဝါးနင်းရာအ
ရပ်၊ ဣသရေလအမျိုးသားတို့တွင်အစဉ်အမြဲငါ
နေရာအရပ်ဖြစ်၏။ ဣသရေလ ရှင်ဘုရင်များနှင့်
အမျိုးသားများတို့သည် မှားယွင်းခြင်းအားဖြင့်
၎င်း၊ရှင်ဘုရင်၏အသေကောင်အားဖြင့်၎င်း၊မြင့်ရာ
အရပ်တို့၌ ငါ၏နာမတော်မြတ်ကိုနောက်တဖန်
၈ မရှုတ်ချရကြ။- သူတို့တံခါးခုံကိုငါ့တံခါး
ခုံအနားမှာ၎င်း၊သူတို့တိုင်ကိုလည်းငါ့တိုင်အနား
မှာ၎င်းတည်ရိုက်လျက်၊ငါနှင့်သူတို့စပ်ကြားမှာ
နံရံတခုတည်းသာရှိလျက်၊ သူတို့ပြုမိသော စက်
ဆုပ် ရွံရှာဖွယ်အမှုတို့ဖြင့်၊ ငါ၏နာမတော်မြတ်
ကို ရှုတ်ချသောကြောင့်၊ ငါသည် အမျက်ထွက်
၉ ၍သူတို့ကို ဖျက်ဆီးပြီ။-ထိုမှုကား၊ သူတို့မှား
ယွင်းခြင်းအမှုများနှင့်ရှင်ဘုရင်၏အသေကောင်
များကိုငါမှဝေးစွာပယ်ရှားကြစေ၊ငါသည်သူတို့
၁၀ သူတို့တွင်အစဉ်အမြဲနေမည်။- အချင်းလူသား
ဣသရေလ အမျိုးသား တို့သည် ကိုယ် ဒုစရိုက်

အပြစ်ကြောင့် ရှက်ကြောက်စေခြင်း၄ါ အိမ်
တော်ကိုပြလော့၊ အိမ်တော်ပုံကို သူတို့ ထိုင်း
၁၁ ကြ စေလော့။ သူ တို့ သည် ကိုယ် ပြု မိ သော
အမှုများကြောင့်အမှန်ရှက်ကြောက်လျှင်၊ အိမ်
စီအထွာခန့်နှင့်ထွက်ရာဝင်ရာတံခါးဝများ၊ ကျင့်
ရအမှုသော ထုံးစံများ၊ စီရင်ထုံးဖွဲ့ချက် တရား
အလုံးစုံတို့ကိုပြလော့၊ သူတို့သည်ထုံးစံများနှင့်
စီရင် ထုံးဖွဲ့ ချက် အလုံးစုံ တို့ကို ကျင့် စောင့် စေ
၁၂ ခြင်း၄ါ သူ တို့ ရှေ့ မှာ ရေးထားလော့။ တောင်
ထိပ်ပေါ်မှာ တည်သောအိမ်တော်၏ တရားဟူ
မူကား၊ အိမ်တော်နယ်နိမိတ်ရှိသမျှတို့သည်အ
ထွန်သန့်ရှင်းရကြမည်။ ဤနေကား၊ အိမ်တော်၏
တရားပေတည်း။
၁၃ ယဇ်ပလ္လင်အတိုင်းအရှည်ကား၊ သံတောင်
ဖြင့်ထိုင်းလျှင်၊ အိနှစ်အမြင့်တတောင်၊ အကျယ်
တတောင်၊ ပတ်ထဉ်အနားပတ်အကျယ်တထွာ
၁၄ ရှိ၍၊ ယဇ်ပလ္လင်ခြင်အထဲ၌တည်ရာ၏။ အောက်
အထစ်သည် မြေနှင့် နှစ်တောင်ကွာ၍ အကျယ်
တတောင်ရှိရမည်။ ငယ်သော အထစ် နှင့်ကြီး
သောအထစ်သည် လေးတောင်ကွာ၍ အကျယ်
၁၅ တတောင် ရှိရမည်။- ယဇ်ပလ္လင် အမြင့်သည်
လည်း လေးတောင်ရှိရမည်။ ဦးချို လေးချောင်း
၁၆ ထည့်ထောက်ရမည်။- ယဇ်ပလ္လင်သည်စတုရန်း
ဖြစ်၍၊ အလျားတဆယ် နှစ်တောင်၊ အနံလည်း
၁၇ တဆယ် နှစ်တောင် ရှိရမည်။- အောက် အထစ်
သည် လည်း စတုရန်း ဖြစ်၍ အလျား တဆယ်
လေးတောင်၊ အနံလည်း တဆယ် လေးတောင်
ရှိရမည်။ အနားပတ်သည်ထဉ်းအကျယ်တထွာ
ရှိရမည်။ အိနှစ်သည် ယဇ်ပလ္လင် ပတ်လည်၌
တတောင်ထွတ်၍၊ တက်ရာထစ်သည် အရှေ့
သို့မျက်နှာပြုရမည်။
၁၈ ထာဝရ အရှင်ထာဝရ ဘုရား
မိန့်တော်မူသည်အတိုင်း၊ မီးရှို့ရာယဇ်ကိုပူဇော်
၍ အသွေးကို ဖြန်းဖို့ရာ၊ ယဇ် ပလ္လင်ကို တည်
၁၉ သောနေ့၌ ကျင့်ရသောတရားဟူမူကား။- အမှု
တော်ကိုဆောင်၍ငါ့ထံသို့ချဉ်းကပ်သောလေဝိ
အမျိုး၊ ဇာဒုတ်သား ယဇ်ပုရောဟိတ်တို့အားအ
ပြစ်ဖြေရာယဇ်အဘို့၊ ပျိုသောနွားထီး တကောင်
၂၀ ကိုပေးရမည်။- နွား၏အသွေးအချို့ကိုယူ၍ယဇ်
ပလ္လင်ဦးချိုလေးချောင်း၊ အထစ်လေးထောင့်၊ အ
နားပတ်ကိုလူးသောအားဖြင့်သန့်ရှင်းစေကြယ်
၂၁ စေရမည်။- အပြစ်ဖြေရာယဇ်အဘို့ နွားကောင်ကို
ယူ၍သန့်ရှင်းရာဌာနပြင်၊ မိတ်မှန်တော်အထွန်း
၂၂ တွင်ခန့်ထားသောအရပ်၌မီးရှို့ရမည်။- ဒုတိယ
နေ့၌လည်း၊ အပြစ်မရှိသောဆိတ်သငယ်ကိုယူ
၍၊ အပြစ် ဖြေရာ ယဇ်အဘို့ ပူဇော်ရမည်။ ယဇ်
ပလ္လင်ကို နွားအသွေးနှင့် သန့်ရှင်းစေသကဲ့သို့
၂၃ ဆိတ် အသွေး နှင့် သန့်ရှင်း စေ ရ မည်။- ထိုသို့
ယဇ်ပလ္လင်ကို သန့်ရှင်းစေပြီး သည် နောက် အ
ပြစ်မရှိ၊ ပျိုသော နွား ထီး နှင့် အပြစ် မရှိ သော
ဆိတ်ထီးကို ထာဝရဘုရားရှေ့တော်၌ ပူဇော်ရ
၂၄ မည်။- ယဇ်ပုရောဟိတ်တို့သည် ဆားကို တင်
လျက်၊ ထိုသတ္တဝါတို့ကို ထာဝရဘုရားအဘို့
၂၅ မီးရှို့၍ပူဇော်ရကြမည်။- ခုနှစ်ရက်ပတ်လုံးတ
နေ့တနေ့လျှင်၊ ဆိတ်တကောင်ကို အပြစ်ဖြေရာ
ယဇ်ပြု၍ပူဇော်ရမည်။ အပြစ်မရှိပျိုသောနွား
ထီးတကောင်နှင့် သိုးထီးတကောင်ကိုလည်း ပူ
၂၆ ဇော်ရမည်။- ခုနှစ်ရက်ပတ်လုံး ယဇ်ပလ္လင်ကို
သန့်ရှင်းစင်ကြယ်စေ၍၊ ကိုယ်ကိုလည်း ယဇ်ပု
၂၇ ရောဟိတ်အရာ၌ခန့်ထားရကြမည်။- ခုနှစ်ရက်
စေ့သောနောက် အဋ္ဌမနေ့၌၎င်း၊ ထိုနေ့မှစ၍၎င်း၊
ယဇ် ပုရော ဟိတ်တို့ သည် ယဇ် ပလ္လင် ပေါ်မှာ
သင်တို့မီးရှို့ရာယဇ်များနှင့် မိဿဟာယ ယဇ်
များကို ပူဇော်ရကြမည်။ ငါသည်လည်း၊ သင်
တို့ကို လက်ခံမည်ဟု၊ အရှင်ထာဝရ ဘုရား မိန့်
တော်မူ၏။

၄၄

၁ ထိုနောက်၊ သန့်ရှင်းရာအရပ်အရှေ့သို့ မျက်
နှာပြုသောပြင်တံခါးသို့ဆောင်သွား၍၊ ထိုတံခါး
၂ သည်ပိတ်လျက်ရှိ၏။- ထာဝရဘုရားကလည်း၊
ဤတံခါးကိုမဖွင့်ဘဲပိတ်ထားလျက်ရှိရမည်။ လူ
များမဝင်ရကြ။ အကြောင်းမူကား၊ ဣသရေလ
အမျိုး၏ ဘုရားသခင်ထာဝရဘုရား ဝင်တော်မူ
၃ သော့ကြောင့် ပိတ်ထား လျက် ရှိရမည်။- မင်း
သားအဖို့ဖြစ်၏။ မင်းသားသည် ထာဝရဘုရား
ရှေ့တော်၌ စားသောက်၍ ထိုတံခါးဝမှာ ထိုင်ရ
ထိုက်မည်။ မင်းသား သည် ထို တံ ခါး မုခ် ဖြင့်
၄ ထွက်ဝင်ရလိမ့်မည်ဟု မိန့်တော်မူ၏။- ထိုအခါ
အိမ် တော် ရှေ့၊ မြောက် တံခါး ထမ်း ဖြင့် ငါ့ကို
ဆောင်သွား၍၊ ထာဝရဘုရား၏ဘုန်းတော်သည်
ထာဝရ ဘုရား၏ အိမ်တော်ကို ဖြည့် တော် မူသ
၅ ဖြင့်၊ ငါသည်ပြပ်ဝပ်လျက်နေ၏။- ထာဝရဘုရား
ကလည်း၊ အချင်းလူသား၊ စေ့စေ့ကြည့်ရှု၍ မှတ်
လော့။ ထာဝရဘုရား၏ အိမ်တော်အမှု ငါစီရင်

ထုံးဖွဲ့ချက် ပညတ်တရားရှိသမျှတို့ကို နား
ထောင်လော့။ အိမ်တော်ဝင်ရာတံခါးဝနှင့် သန့်
ရှင်းရာဌာနမှ ထွက်ရာ တံခါးဝရှိသမျှတို့ကို စေ့
၆ စေ့မှတ်လော့။- ပုန်ကန်တတ်သောသူ၊ ဣသရေ
လအမျိုးသားတို့အားအရှင်ထာဝရဘုရား၏အ
မိန့်တော်ကိုဆင့်ဆိုရမည်မှာ၊ အိုဣသရေလအ
၇ မျိုးသားတို့၊- ထင်တို့သည်ငါ့ထောဇဉ်တည်း
ဟူသောဆီဥနှင့် အသွေးကို ပူဇော်သောအခါ၊
ငါ့ဗိမာန်ကိုညစ်ညူးစေခြင်းငှါ၊ အရေဖျားလှီး
ခြင်းကိုမခံသောစိတ်နှင့်အရေဖျားလှီးခြင်းကိုမ
ခံသောကိုယ်ရှိသောတပါးအမျိုးသားတို့ကို ငါ
၏သန့်ရှင်းရာဌာနထဲသို့သွင်း၍ နေရာချသဖြင့်၊
စက်ဆုပ်ရွံရှာဖွယ်သောအမှုများကို ပြုမိသည်
ဖြစ်၍၊ ရောင့်ရဲသောစိတ်ရှိကြလော့။ စက်ဆုပ်
ရွံရှာဖွယ်သော အမှုများ အားဖြင့် ငါ့ပဋိညာဉ်
၈ ကိုဖျက်ကြပြီ။- ငါ၏သန့်ရှင်းရာဌာနကိုမစောင့်။
ထိုဌာန၌ စောင့်သော သူတို့ကို ကိုယ်အလိုအ
လျောက်ခန့်ထားကြပြီ။
၉ အရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဣ
သရေလအမျိုးသားတို့တွင်နေ၍၊ အရေဖျားလှီး
ခြင်းကိုမခံသောစိတ်နှင့် အရေဖျား လှီးခြင်းကို
မခံသောကိုယ် ရှိသောတပါး အမျိုးသား သည်
၁၀ ငါ၏သန့်ရှင်းရာဌာနထဲသို့မဝင်ရ။- ဣသရေလ
အမျိုးသားတို့သည် ငါ့ထံမှ ထွက်၍ လမ်းလွဲပြီး
လျှင်၊ မိမိတို့ ရုပ်တုများ နောက်သို့ လိုက်သွား
သောအခါ၊ ငါ့ထံမှထွက်၍ လမ်းလွဲသော လေဝိ
သားတို့သည် ထည်း ကိုယ်အပြစ်ကို ခံရကြ
၁၁ မည်။- သို့ရာတွင်၊ ငါ၏သန့်ရှင်းရာဌာနနှင့်ဆိုင်
သောအမှုစောင့်ဖြစ်၍၊ ဗိမာန်တော်၌တံခါးတို့
ကိုစောင့်လျက်၊ အမှုတော်ကို ဆောင်ရွက်လျက်
နေရကြမည်။ မီးရှို့ရာ ယဇ်နှင့် လူ များ ပူဇော်
သောယဇ်ကောင်တို့ကို သတ်၍၊ လူများ ကိုယ်
၁၂ စားအမှုတော်ကို ဆောင်ရွက်ရကြမည်။- သူတို့
သည်ရုပ်တုတို့ရှေ့မှာလူများအမှုကိုဆောင်ရွက်
သဖြင့်၊ ဣသရေလအမျိုးထိမိ၍ ဒုစရိုက်အပြစ်
ထဲသို့လဲစရာအကြောင်း ဖြစ်ဘူးသောကြောင့်၊
သူတို့တဖက်၌ ငါကျိန်ဆို၍၊ သူတို့သည် ကိုယ်
၁၃ အပြစ်ကိုခံရကြမည်။- ယဇ်ပုရောဟိတ်လုပ်၍
ငါ့ထံသို့မချဉ်းကပ်ရကြ။ အလွန်သန့်ရှင်းသော
ဌာန၌သန့်ရှင်းသောအရာတို့ကိုမချဉ်းကပ်ရ
ကြ။ ကိုယ်အရှက်ကွဲခြင်း၊ ကိုယ်ပြုမိသောစက်
၁၄ ဆုပ်ရွံရှာဖွယ် အမှုတို့ ကို ခံရကြ မည်။- အိမ်
တော်ကိုစောင့်၍၊ အိမ်တော်၌ ခပ်သိမ်းသောအ
မှုတို့ကိုဆောင်ရွက်စေခြင်းငှါ ငါခန့်ထားမည်။-
၁၅ ဣသရေလ အမျိုးသားတို့သည် ငါ့ထံမှ ထွက်၍
လမ်းလွဲသောအခါ၊ ငါ၏ သန့် ရှင်း ရာ ဌာနကို
စောင့်နေသော လေဝိ အမျိုး ဖြစ်သော ဇာဒုတ်
သား၊ ယဇ်ပုရောဟိတ်တို့သည်ငါ့အမှုကိုဆောင်
ခြင်းငှါ ငါ့ထံသို့ချဉ်းကပ်ရကြမည်။ ငါ့အားဆီဥ
နှင့်အသွေးကို ပူဇော်ခြင်းငှါ ငါ့ရှေ့မှာ ရပ်ရကြ
၁၆ မည်ဟု၊ အရှင်ထာဝရဘုရားမိန့်တော်မူ၏။- ထို
သူတို့သည်ငါ၏သန့်ရှင်းရာဌာနထဲသို့ဝင်၍ငါ့အ
မှုကိုဆောင်ခြင်းငှါ၊ ငါ့စားပွဲအနားသို့ချဉ်းကပ်
၍ ငါ့အမှုစောင့် ဖြစ်ရကြမည်။
၁၇ သူတို့သည် အတွင်းတန်တိုင်းတံခါး အတွင်း
သို့ဝင်သောအခါ၊ ပိတ်အဝတ်ကိုသာဝတ်ရကြ
မည်။ အတွင်း တန်တိုင်း တံခါး အတွင်း ၌ အမှု
တော်ကို ဆောင်ရွက်စဉ်၊ သိုးမွေး အဝတ်ကို မ
၁၈ ဝတ်ရကြ။- ခေါင်းပေါ်မှာပိတ်ဦးထုပ်ကိုဆောင်း
၍၊ ခါး၌ပိတ်ပေါင်းဘိကို ဝတ်ရကြမည်။ ချွေး
၁၉ ထွက်စေသောအဝတ်ကိုမဝတ်ရကြ။- လူများရှိ
ရာပြင်တန်တိုင်းသို့ ထွက်သွားသောအခါ၊ အမှု
တော်ကို ဆောင် စဉ်တွင် ဝတ်သော အဝတ်ကို
ချွတ်၍၊ သန့်ရှင်းသောအခန်းတို့၌ထားပြီးလျှင်၊
အခြားသောအဝတ်ကိုဝတ်ရကြမည်။ အရင်အ
ဝတ်ကိုဝတ်လျက် လူများတို့ကို မသန့်ရှင်းစေရ
၂၀ ကြ။- မိမိတို့ဆံပင်ကိုလည်း မရိတ်ရ၊ မရှည်စေ
၂၁ ခြင်းငှါ ဖြတ်ရမည်။- ယဇ်ပုရောဟိတ်သည်အ
တွင်းတန်တိုင်းထဲသို့ ဝင်သော အခါ စပျစ်ရည်
၂၂ ကိုမသောက်ရ။- မုဆိုးမနှင့်မစုံဖက်ရ။ ထင်ကွာ
သောမိန်းမနှင့်မစုံဖက်ရ။ ဣသရေလအမျိုး အပျို
ကညာနှင့်သော်၎င်း၊ ယဇ်ပုရောဟိတ်၏မယား
ဖြစ်ဘူးသောမုဆိုးမနှင့်သော်၎င်းစုံဖက်ရမည်။-
၂၃ ငါ၏လူတို့သည်သန့်ရှင်းသောအရာ၊ မသန့်ရှင်း
သောအရာတို့ကို၎င်း၊ စင်ကြယ်သောအရာ၊ မစင်
ကြယ်သောအရာတို့ကို၎င်းပိုင်းခြား၍ သိစေခြင်း
၂၄ ငှါ သွန်သင်ရကြမည်။- တရား တွေ့ မှုကို စီရင်
လျှင်၊ ငါ၏စီရင်ထုံးဖွဲ့ချက်အတိုင်းစီရင်ရကြမည်။ ငါ၏
ခွဲ့ပွဲတို့ကိုဆောင်ရွက်လျှင်၊ ငါစီရင်ထုံးဖွဲ့ချက်
တို့ကို၎င်း၊ ငါ၏ဥပုသ်နေ့တို့ကို၎င်း စောင့်ရှောက်
၂၅ ရကြမည်။- အသေကောင်ကိုချဉ်း၍ကိုယ်ကိုမ
ညစ်ညူးစေရ။ သို့ရာတွင်၊ ကိုယ်မိဘ၊ သားသမီး၊ ညီ
အစ်ကို၊ ထင်မနေသော နှမ အထွက် ကိုယ်ကို
၂၆ ညစ်ညူးစေရသောအခွင့်ရှိ၏။- သန့်ရှင်းခြင်းကို

၂၇ ပြီးမှ၊ ခုနစ်ရက်နေရမည်။- သန့်ရှင်းရာဌာနသို့
အမှုတော်ကို ဆောင်ခြင်းငှါ အတွင်းတန်တိုင်း၊
သန့်ရှင်းရာဌာနထဲသို့ ဝင်သောနေ့တွင်၊ အပြစ်
ဖြေရာယဇ်ကို ပူဇော်ရမည်ဟု၊ အရှင်ထာဝရ
၂၈ ဘုရားမိန့်တော်မူ၏။-ထိုအရာသည် ယဇ်ပုရော
ဟိတ်တို့၏အမွေဥစ္စာဖြစ်ရမည်၊ ငါသည်သူတို့
အမွေဥစ္စာဖြစ်၏၊ ဣသရေလပြည်၌ သူတို့အား
အမွေမြေကိုမပေးရ၊ ငါသည်သူတို့၏အမွေမြေ
၂၉ ဖြစ်၏။- ပူဇော်သောမုန့်ညက်နှင့် အပြစ်ဖြေရာ
ယဇ်၊ ချေမှုန်းမြေရာယဇ်ကို စားရကြမည်၊ ဣ
သရေလ အမျိုးသားကျိန်ဆို၍ ပူဇော်သမျှ တို့
၃၀ ကိုလည်း သိမ်းယူ ရကြမည်။- အဦးသီးသော
အသီးအမျိုးမျိုးနှင့်မျိုးမြောက်ရာပူဇော်သက္ကာ
အလုံးစုံတို့ကို ယဇ်ပုရောဟိတ် သည် သိမ်းယူ
ရမည်၊ သူသည်သင့်အိမ်၌ ကောင်းကြီးမင်္ဂလာ
ကို သက်ရောက် စေခြင်းငှါ၊ အဦးနယ်သော
၃၁ မုန့်စိမ်းကို သူ၌ လှူရမည်။- ငှက်ဖြစ်စေ၊ သား
ဖြစ်စေ၊ အလိုလို သေသော အကောင်၊ အသားရဲ
ကိုက်၍ သေသောအကောင်ကိုယဇ်ပုရောဟိတ်
မစားရ။

၄၅

၁ ထင်ထိုသည်မြေကိုအမွေခံခြင်းငှါ စာရေးတံ
ချ၍ ဝိုင်းခြားသောအခါ၊ သန့်ရှင်းသော မြေ
ကွက်ကို ထာဝရဘုရားအား ပူဇော် ရကြမည်၊
ထိုအကွက် သည် အလျား ကျူ ထုံး အပြန် နှစ်
သောင်း ငါး ထောင်၊ အနံ တသောင်း ရှိရမည်၊
နယ်နိမိတ်ရှိသမျှသည်လည်းသန့်ရှင်းရမည်။-
၂ ထိုမြေကွက်အထဲ၌အလျားအတောင်ငါးရာ၊
အနံလည်းအတောင် ငါးရာရှိသောစတုရန်း အ
ကွက်သည်သန့်ရှင်းရာဌာနဘို့ဖြစ်ရမည်၊ ထိုအ
ကွက်ပတ်လည်၌ သန့်ရှင်းသောနယ်လည်း အ
၃ တောင် ငါးဆယ် ရှိရမည်။- ထိုသို့ အလျား နှစ်
သောင်းငါးထောင်၊ အနံတသောင်းကိုတိုင်းပြီး
မှ အထဲ၌ သန့်ရှင်းသောအရပ်နှင့်သန့်ရှင်းသော
၄ ဌာနတည်ရာဖြစ်ရမည်။- ထိုသန့်ရှင်းသောမြေ
သည်ထာဝရဘုရား၏အမှုတော်ကိုဆောင်ခြင်း
ငှါ အထံတော်သို့ချဉ်းကပ်၍၊ သန့်ရှင်းရာဌာန
၏ အမှုစောင့်၊ ယဇ်ပုရောဟိတ်တို့ အဘို့ ဖြစ်ရ
မည်၊ သူတို့အိမ်ဆောက်စရာနှင့်သန့်ရှင်းရာဌာ
နတည်စရာထို့ သန့်ရှင်း သော မြေ ဖြစ်ရမည်။-
၅ အလျားနှစ်သောင်းငါးထောင်၊ အနံတသောင်း
ရှိသောအကွက်ထဲ၌အိမ်တော်အမှုစောင့်လေဝိ
လူတို့နေရာ အခန်းနှစ်ဆယ် တည်ဆောက် စရာ
၆ ဘို့ဖြစ်ရမည်။- မြို့တော်နှင့်ဆိုင်သောမြေသည်
သန့်ရှင်းသောအရပ်တစက်တချက်၌အလျားတ
သောင်းငါးထောင်၊အနံငါးထောင်ရှိ၍၊ဣသရေ
လ အမျိုးသား အပေါင်းတို့ အဘို့ ဖြစ်ရမည်။-
၇ သန့်ရှင်းသော မြေကွက်နှင့် မြို့တော် နယ်နိမိတ်
အ ရှေ့ဘက် ထက် တရှောက် လုံး တပိုင်း၊ အနောက်
ထက်တရှောက်လုံးတပိုင်းသည် မင်းသားအဘို့
၈ ဖြစ်ရမည်။- ငါ၏ မင်းသားတို့သည် နောက် တ
ဖန်ငါ၏လူတို့ကိုမညှဉ်းဆဲမည်အကြောင်း၊ ထို
မြေသည် ဣသရေလပြည်၌ မင်းသားပိုင်သော
မြေဖြစ်ရမည်၊ ကြွင်းသောမြေကို ဣသရေလအ
မျိုး၊ အနွယ်အသီးအသီးတို့အားပေးဝေရမည်။
၉ အရှင် ထာဝရ ဘုရား မိန့်တော်မူသည်ကား၊
အိုဣသရေလမင်းသားတို့၊ ရောင့်ရဲသောစိတ်ရှိ
ကြလော့၊ အနိုင်အထက်ပြုခြင်း၊ လုယူခြင်းအမှု
တို့ကိုပယ်ရှား၍၊ တရားသောအမှု၊ ထုတ်မှန်
သောအမှုတို့ကို ပြုကြလော့၊ နောက်တဖန်ငါ၏
လူတို့ကို မညှဉ်းဆဲမနှိပ်စက်ကြနှင့်ဟု၊ အရှင်
၁၀ ထာဝရဘုရားမိန့်တော်မူ၏။- မှန်သောချိန်ခွင်၊
မှန်သော ဧဖာ၊ မှန်သော ဗတ် တို့ကို သုံး ရကြ
၁၁ မည်။- ဧဖာနှင့်ဗတ်သည် အညီအမျှ ရှိရမည်၊
နှစ်ပါးသည်ဟောမဲကိုအမှီပြု၍၊ ဧဖာသည်တ
ဟောမဲ တွင် ဆယ် စုတစု၊ ဗတ်သည်လည်း တ
၁၂ ဟောမဲတွင် ဆယ် စုတစု ရှိရ မည်။- ဂေရာ နှစ်
ဆယ်ကိုတကျပ်၊ အကျပ်ခြောက်ဆယ်ကိုတမာ
နေ ရှိရမည်။
၁၃ မျိုးမြောက်ရာပူဇော်သက္ကာပြုသောအခါ၊ ဂျုံ
ဆန်ဖြစ်စေ၊ မုယောဆန်ဖြစ်စေ၊ တဟောမဲတွင်
၁၄ တဧဖာမဲ ကို ပူဇော် ရ မည်။- ဆီနှင့် ဆိုင် သော
ပညတ်ဟူမူကား၊ တကောရတွင်ဗတ်ဆယ်စုတ
စုကို ပူဇော်ရမည်၊ တဟောမဲသည် ဆယ်ဗတ်
ဖြစ် သော့ကြောင့် တကောရ သည် ဆယ်ဗတ်
၁၅ ဖြစ်သတည်း။-သူတို့အပြစ်ကိုဖြေခြင်းငှါ ဣသ
ရေလကျက်စားရာ၊ရေများသောအရပ်၌ရှိသော
သိုး နှစ်ရာတွင် သိုး သငယ် တကောင် ကို ဘော
ဇဉ်ပူဇော်သက္ကာနှင့်တကွမီးရှို့ရာယဇ်၊ မိဿ
ဟာယယဇ်တို့ကိုပူဇော်ရကြမည်ဟု၊ အရှင်ထာ
၁၆ ဝရဘုရား မိန့်တော်မူ၏။- ထို မျိုး မြောက် ရာ ပူ
ဇော်သက္ကာကို ပြည်သူ ပြည်သား အပေါင်း တို့
သည် ဣ သ ရေ လ မင်း သား အား ဆက် ရ ကြ
၁၇ မည်။- မင်းသား သည် လည်း ပွဲသဘင်နေ့၊ လ



 

ဆန်းနေ့၊ ဥဝုသ်နေ့၊ ဣသရေလအမျိုးပရိသတ်စည်းဝေးသောနေ့ရက်အစည်အထိုင်း မီးရှို့ရာယဇ်၊ဘောဇဉ်ပူဇော်သကာ၊သွန်းလောင်းရာပူဇော်သကာတို့ကိုပူဇော်ရမည်။ဣသရေလအမျိုး၏ အပြစ်ကို ဖြေခြင်းငှါ အပြစ်ဖြေရာ ယဇ်၊ဘောဇဉ် ပူဇော် သကာ၊ မီး ရှို့ရာ ယဇ်၊ မိဿဟာယယဇ်ကိုသည်း ပူဇော်ရမည်။

၁၈ အရှင် ထာဝရဘုရား မိန့်တော် မူသည် ကား၊ ပဌမလတရက်နေ့တွင်၊ အပြစ်မပါ၊ အသက်ရှိသော နွားထီး တကောင် ကို ယူ၍ သန့်ရှင်း ရာ

၁၉ ဌာနကို စင်ကြယ်စေရမည်။- ယဇ်ပရောဟိတ်သည် အပြစ်ဖြေရာယဇ်ကောင်အသွေးအချို့ကိုယူ၍ အိမ်တော်တိုင်၌၎င်း၊ ယဇ် ပလ္လင်အောက်ထစ်လေးထောင့်၌၎င်း၊ အတွင်းတန်တိုင်းတံခါး

၂၀ တိုင်၌၎င်း တည့်ရမည်။- ထိုမှတပါး၊ မှားယွင်းသောသူနှင့် မိုက်သောသူအတွက် ခုနစ်ရက်နေ့တွင်၊ ထိုနည်းတူ ပူဇော်၍၊ အိမ်တော်အတွက် အပြစ်ဖြေရာမင်္ဂလာကိုပြုရမည်။

၂၁ ပဌမလ တဆယ်လေးရက်နေ့တွင်၊ ပသခါ ပွဲကိုခံရမည်။ ခုနစ်ရက်ပတ်လုံး ပွဲခံစဉ်တွင် တ

၂၂ ဆေးမဲ့မုန့်ကိုသာစားရမည်။- ထိုနေ့၌မင်းသားသည်ကိုယ်အဖို့၎င်း၊ ပြည်သူ ပြည်သား အပေါင်းတို့အဖို့၎င်း၊ နွားထီး တကောင် ကို အပြစ် ဖြေရာ

၂၃ ယဇ်ပူဇော်ရမည်။- ပွဲနေ့ ခုနစ်ရက်ပတ်လုံးထာဝရဘုရား အား မီး ရှို့ရာ ယဇ်အဖို့ နွားထီး ခုနစ်ကောင်၊ အပြစ် မပါသော သိုးထီး ခုနစ် ကောင် ကို၎င်း၊ အပြစ် ဖြေရာယဇ်အဖို့ ဆိတ် သငယ် တ

၂၄ ကောင်ကို၎င်း နေ့တိုင်း ပူဇော် ရမည်။- နွား၊ဖြစ်စေ၊ သိုး ဖြစ်စေ၊ တကောင် တကောင် နှင့် ပါရသော ဘောဇဉ် ပူဇော်သကာအဘို့ မုန့်ညက် တ

၂၅ ဧဖာ၊ ဆီတဟိန်ကိုပွင့်ဆင်ရမည်။- သတ္တမလ တဆယ်ငါးရက် နေ့တွင်၊ ပွဲခံ၍ယခင်အပြစ်ဖြေရာယဇ်၊မီးရှို့ရာယဇ်၊ဘောဇဉ်ပူဇော်သကာ၊ ဆီပူဇော်သကာ ပြုသည်အထိုင်း ခုနစ်ရက်ပတ်လုံးပြုရမည်။

၄၆

၁ အရှင် ထာဝရဘုရား မိန့်တော်မူသည် ကား၊ အရှေ့သို့ မျက်နှာ ပြုသော အတွင်း တန် တိုင်း တံခါးကို အလုပ်လုပ်သောနေ့ ခြောက်ရက်ပတ်လုံးပိတ်ထားရမည်။ ဥဝုသ်နေ့ နှင့် လဆန်းနေ့၌

၂ ဖွင့်ထားရမည်။- မင်းသားသည် ထိုတံခါးဓုတ်ဖြင့်ဝင်၍တံခါးတိုင်အနားမှာရပ်နေရမည်။ယဇ်ပရောဟိတ်တို့သည်မင်းသား၏မီးရှို့ရာယဇ်၊မိဿဟာယယဇ်တို့ကိုပူဇော်၍၊ သူသည်တံခါးခုံ၌ဦးညွတ်ချပြီးမှ ပြင်သို့ထွက်သွားရမည်။ ထိုရာတွင်၊ ညဦးယံမရောက်မှီ ထိုတံခါးကိုမပိတ်ရ။-

၃ ထိုနည်းတူ၊ ဥဝုသ်နေ့ နှင့် လဆန်း နေ့၌ ပြည်သူပြည်သား၊ ထိုသည် ထိုတံခါးဝ နားမှာ ထာဝရဘုရား ရှေ့ တော် တွင် ဦး ညွတ် ချ ရ ကြ မည်။-

၄ ဥဝုသ်နေ့၌ မင်းသားသည် မီးရှို့ရာ ယဇ် တို့ အပြစ်မပါသောသိုးသငယ် ခြောက်ကောင်၊ အပြစ်မပါသောသိုးထီးတကောင်ကိုထာဝရဘုရားထံ

၅ တော်သို့ဆောင်ခဲ့ရမည်။- ဘောဇဉ်ပူဇော်သကာတို့ သိုးထီးတကောင်နှင့် မုန့်ညက်တဧဖာ၊ ဆီတဟိန်ကို၎င်း၊သိုးသငယ်နှင့်အလိုရှိသမျှကို

၆ ၎င်းပူဇော်ရမည်။-လဆန်းနေ့၌အပြစ်မပါသော နွားထီးတကောင်၊ သိုးသငယ် ခြောက်ကောင်၊

၇ သိုးထီးတကောင်ကို ပူဇော်ရမည်။- ဘောဇဉ်ပူဇော်သကာတို့ နွားတကောင်နှင့် မုန့်ညက်တဧဖာ၊ သိုးတကောင်နှင့် တဧဖာ၊ သိုးသငယ်နှင့် အလိုရှိသမျှကို၎င်း၊ မုန့်ညက် တဧဖာနှင့် ဆီတဟိန်ကို၎င်းပူဇော်ရမည်။

၈ မင်းသားဝင်သောအခါ အရှေ့တံခါးဓုတ်ဖြင့် ဝင်ရမည်။ ထိုတံ ခါး ဓုတ် ဖြင့် ထည်း ထွက်ရ

၉ မည်။- ပြည်သူပြည်သားတို့သည်ဓမ္မပွဲခံမှိန်ထောထ၍၊ထာဝရဘုရားရှေ့တော်သို့ ဝင်သောအခါ၊ ဦးညွတ်ချခြင်းငှါမြောက်တံခါးဖြင့်ဝင်သော သူသည်တောင်တံခါးဖြင့် ထွက်ရမည်။ တောင်တံခါး ဖြင့် ဝင်သော သူသည် မြောက် တံခါး ဖြင့် ထွက်ရမည်။ ဝင်သောတံခါးဖြင့်မထွက်ရ။ ဝင်သော တံခါး၊တဖက်တချက်၌ ရှိသော တံခါးဖြင့်

၁၀ ထွက် ရမည်။- ပြည်သားတို့တွင် မင်းသား ဖြစ်သောသူသည် သူ တို့ ဝင် သောအခါ ဝင်ရမည်။

၁၁ သူ တို့ ထွက် သော အခါ ထွက် ရ မည်။- ပွဲခံ၍ ပရိသတ်စည်းဝေးရာကာလ၌ဘောဇဉ်ပူဇော်သကာတို့၊ နွားတကောင်နှင့် မုန့်ညက်တဧဖာ၊ သိုးတကောင်နှင့်တဧဖာ၊သိုးသငယ်နှင့်အလိုရှိသမျှကို၎င်း၊ မုန့်ညက်တဧဖာနှင့် ဆီတဟိန်ကို

၁၂ ၎င်း ပူဇော်ရမည်။- မင်းသားသည် အလိုလို ပြုသောမီးရှို့ရာယဇ်၊ မိဿဟာယယဇ်ကိုမိမိအလိုအလျောက်ထာဝရဘုရားအားပူဇော်သော ပြုသော အခါ၊ အရှေ့သို့ မျက်နှာပြုသောတံခါးကိုဖွင့်ရမည်။သူသည်ဥဝုသ်နေ့၌မီးရှို့ရာယဇ်၊ မိဿဟာယယဇ်ကို ပူဇော် သကဲ့သို့ ပူဇော်ရ

မည်။ ပူဇော်ပြီးမှထွက်သွား၍ တံခါးကို ပိတ်
ထားရမည်။
၁၃ နေ့တိုင်းအစဉ်၊ ထာဝရဘုရားအား မီးရှို့ရာ
ယဇ်ဘို့ အပြစ်မပါ၊ အခါမလဲသောသိုးသငယ်
၁၄ တကောင်ကိုနံနက်အမျှိန်၌ပူဇော်ရမည်။-နံနက်
တိုင်းအစဉ်၊ထိုသိုးသငယ်နှင့် အတူဘောဇဉ်
ပူဇော်သက္ကာဘို့ မုန့်ညက်တဧဖာတွင် ခြောက်
စုတစုကိုငှင်၊ မုန့်ညက်နှင့် ရောရ သော ဆီလေး
သောဟိန်ကိုငှင် ပူဇော်ရမည်။ ဤရွေကား၊ ထာ
ဝရဘုရားအားအစဉ်အမြဲပြုရသောဘောဇဉ်
၁၅ ပူဇော်သက္ကာ တရားပေတည်း။- ထိုသို့ မီးရှို့ရာ
ယဇ်ကိုနံနက်တိုင်းအစဉ်မပြတ်ပူဇော်စရာဘို့
သိုးသငယ်ကိုငှင်၊ ဘောဇဉ် ပူဇော်သက္ကာနှင့်
ဆီကိုငှင်ဆောင်ရမည်။
၁၆ အရှင် ထာဝရဘုရား မိန့်တော်မူသည် ကား၊
မင်းသားသည် မိမိသားး၌ လက်ဆောင် တစုံတ
ခုကိုပေးလျှင်၊ ထိုလက်ဆောင်သည် အမွေဥစ္စာ
ဖြစ်၍၊သားတော်သည်အမွေခံလျက်သိမ်းယူရ
၁၇ မည်။- မိမိကျွန်၌အမွေဥစ္စာလက်ဆောင်တစုံတ
ခုကို ပေးလျှင် မူကား၊ လွတ်ရာနှစ် သက္ကရာဇ်
တိုင်ရှိမျှသာ ထိုကျွန်သည်ပိုင်ရမည်။ နောက်မှ
မင်းသား ထံသို့ ပြန် ရောက် ရမည်။ သားး မူ
၁၈ ကား၊အစဉ်အမြဲ အမွေခံရမည်။- ထိုမှတပါး၊
မင်းသားသည် ပြည်သားးအမွေမြေကို အနိုင်အ
ထက်ယူ၍မြေရှင်ကို မနှင်ထုတ်ရ။ မိမိပိုင်သော
မြေထဲကမိမိသားးတို့အားအမွေပေးရမည်။ ငါ၏
လူတို့သည် မိမိတို့ပိုင်သောအမွေမြေ၌ မနေရဘဲ
အရပ်ရပ်သို့ကွဲပြားစေခြင်းငှါမပြုရ။
၁၉ ထိုနောက်မှ တံခါးအနားး၌ ရှိသော ဝင်ဝ ဖြင့်
ငါကိုဆောင်သွား၍၊မြောက်သို့မျက်နှာပြုသော
ယဇ်ပုရောဟိတ် သန့်ရှင်းသော အခန်းများထဲ
သို့သွင်းသဖြင့်၊ အနောက်ဘက်၌ရှိသောအရပ်
၂၀ တခုကို ငါမြင်၏။- ဤ အရပ် ကား၊ ယဇ် ပုရော
ဟိတ်တို့သည်ဒုစရိုက်ဖြေရာယဇ်၊အပြစ်ဖြေရာ
ယဇ်ကိုပြုတ်၍၊ဘောဇဉ်ပူဇော်သက္ကာကိုဖုတ်
ရသောအရပ်ဖြစ်၏။လူများကိုသန့်ရှင်းစေခြင်း
ငှါ၊ထိုအရာတို့ကိုပြင်တန်တိုင်းထဲသို့ မထုတ်ရ
၂၁ ကြဟု ငါ့အား ပြောဆို၏။- တဖန် ပြင်တန်တိုင်း
ထဲသို့ ငါကို ခေါ် သွင်း၍ တန်တိုင်းထောင့် လေး
ထောင့်တို့ကို ရှောက် သွား စေသဖြင့်၊ ထိုလေး
ထောင့်တို့၌ တန်တိုင်းငယ်တခုစီ ရှိသည်ကို ငါ
၂၂ မြင်၏။- ထိုတန်တိုင်းငယ်တို့သည် အလျားအ
တောင်လေးဆယ်၊ အနံအတောင်သုံးဆယ်ရှိ၍၊
၂၃ အတိုင်းအရှည်တညီတညွတ်တည်းဖြစ်ကြ၏။-ထို
လေးထောင့်တို့အတွင်းပတ်လည်၌ချက်ပြုတ်စရာ
ဘို့အစဉ်အတိုင်းခုံလောက်တန်းများရှိကြ၏။-
၂၄ ဤအရပ်တို့ကား၊ဗိမ်တော်အမှုစောင့်တို့သည်
လူများ ပူဇော်သော ယဇ်ကောင်တို့ကို ပြုတ်ရ
သောအရပ်ဖြစ်ကြသည်ဟု ငါ့အား ပြောဆို၏။

၄၇

၁ ထိုနောက်မှ ဗိမ်တော်တံခါးသို့ တဖန် ငါ့ကို
ဆောင်ခဲ့၍၊ တံခါးခုံအောက်မှာ အရှေ့ဘက် သို့
ထွက်သောရေကို ငါမြင်၏။ ဗိမ်တော်ဦးသည်
အရှေ့သို့မျက်နှာပြု၍၊ ရေသည်ဗိမ်တော်တံခါး
ခုံ လက်ျာ အောက်၊ ယဇ် ပလ္လင် တော် တောင်
၂ ဘက်မှ စီး သွား လေ၏။- တဖန် မြောက် တံခါး
လမ်းဖြင့် ငါကို ထုတ် ၍ ပြင်၌ ပိုင်း သွား လျက်၊
အရှေ့သို့ မျက်နှာပြုသော ပြင်တံခါး လမ်းဝသို့
ရောက် သောအခါ၊ လက်ျာဘက်မှ စီးသော ရေ
၃ ကိုငါမြင်၏။- ကြိုးကိုကိုင်သော သူသည် အရှေ့
သို့သွား ပြီးလျှင်၊ အတောင်တထောင်စေ့အောင်
တိုင်း၍ ငါ့ကိုရေကူးစေ၏။ ရေသည် ဖမျက်သို့ ရှိ
၄ လေ၏။- တဖန်အတောင်တထောင် စေ့အောင်
တိုင်း၍ ရေကူးစေပြန်လျှင်၊ရေသည်ဒူးကိုမှီလေ
၏။ တဖန်အတောင်တထောင်စေ့အောင်တိုင်း၍
၅ ကူးစေပြန်လျှင်၊ရေသည်ခါးကိုမှီလေ၏။-တဖန်
အတောင်တထောင်စေ့အောင်တိုင်း သော အခါ
မကူး ႏိုင် သော မြစ် ဖြစ် လေ ၏။ ရေ တ သော
ကြောင့်နင်း၍ မကူးနိုင်၊ မြေထောက်၍ မမှီဘဲ
၆ ကူးရသောမြစ်ဖြစ်၏။-ထိုသူက၊အချင်းလူသား၊
ဤအရာကို မြင်ပြီမဟုတ်လောဟုပြောပြီးမှ၊ တ
၇ ဖန်ငါကိုခေါ်သွား၍ မြစ်နားးသို့ ပြန်စေ၏။- ပြန်
စဉ်အခါ မြစ်နားးနှစ်ဖက်၌ များစွာသောအပင်
၈ တို့ကိုငါမြင်၏။- ထိုသူကလည်း၊ ဤရေသည်အ
ရှေ့သို့စီး၍တောကိုရှောက်ပြီးမှ၊ ပင်လယ်ထဲသို့ဝင်
တတ်သောအားးဖြင့်ပင်လယ်ရေသည် ရှင်လိမ့်မည်။-
၉ အသက်ရှင်၍ လှုပ်ရှားတတ်သော သတ္တဝါ အ
မျိုးမျိုးတို့သည် ထိုမြစ်ရေရောက်သမျှသော အ
ရပ်တို့၌အသက်ရှင်၍၊အလွန်များစွာသောငါး
တို့လည်း ရှိကြ လိမ့်မည်။ ထို မြစ်ရေ သည် ရှိ
သောကြောင့်၊ ရောက်သမျှ သော အ ရပ် တို့ ၌
သတ္တဝါ၊ အမျိုးမျိုးတို့သည် အသက်ရှင်ကြလိမ့်
၁၀ မည်။- ပိုင်နားးမှာတံငါတို့သည်ရပ်၍၊ ဧဂေဒိ
ရွာမှစ၍ဧနေဂလိမ်ရွာတိုင်အောင်ပိုက်ကွန်ဖြန့်

ဗွေရာအရပ်ဖြစ်လိမ့်မည်။ငါးအမျိုးမျိုးတို့သည်
မဟာပင်လယ်ငါးကဲ့သို့ အလွန် များ ပြား ကြ
၁၁ လိမ့်မည်။- ရွံ့ပွက်ရေနှင့်ရွံ့ဗိုင်ရေမူကား၊မရှိ
၁၂ ရ၊ဆားစည်ငန်ရလိမ့်မည်။-မြစ်ကမ်းနားနှစ်ဖက်
၌စားစရာကောင်းသော အပင်အမျိုးမျိုး ပေါက်
ကြလိမ့်မည်။ အရွက်သည်းမညှိုးမနွမ်းရ၊ အ
သီးသည်း မပြတ်ရ၊ လ တိုင်းအစည်နှုသောအ
သီးကိုသီးလိမ့်မည်။ အကြောင်းမူကား၊ ထိုရေ
သည်သန့်ရှင်းရာဌာနထဲကထွက်သတည်း။ အ
သီးသည်စားစရာဘို့ဖြစ်၏၊အရွက်သည်ထည်း
အနာရောဂါ ပြိမ်းစရာ ဘို့ ဖြစ် သည် ဟု ငါ့အား
ပြောဆို၏။

၁၃ အရှင် ထာဝရ ဘုရား မိန့် တော် မူ သည် ကား
ထိုင်း၊ဣသရေလအမျိုး တဆယ်နှစ်မျိုးအမွေခံ
ရသောမြေအပိုင်းအခြား ဟူမူကား၊ ယောသပ်
၁၄ သည်မြေအပိုင်းအခြားနှစ်ခုကိုယူရမည်။-သို့
သေးတို့အား ငါကျိန်ဆိုသည်အတိုင်း၊ ငါပေးရ
သော ထိုမြေသည်သင်တို့ အမွေမြေဖြစ်၍၊ သင်
၁၅ တို့သည် အချင်းချင်း အမွေ ခံရကြ မည်။- မြေ
မြောက်ထက် အပိုင်း အခြား သည် မဟာ ပင်
လယ်တဖက်တချက်၊ ဟေသလုန်လမ်း။ ဇေဒဒ်
၁၆ ထမ်းသို့ လိုက်လျှက်၊- ဟာမတ်မြို့နှင့် ဗေရော
သာမြို့ကိုငှင်၊ ဒမာသတ်နယ်နှင့် ဟာမတ်နယ်
စပ်ကြား၊ မှာ သိဗရိမ်မြို့ကိုငှင်၊ ဟောရန်မြို့ အ
၁၇ နားမှာ ဟာဇာဟတ္တိကုန်မြို့ကိုငှင် ပိုင်း၍၊- တ
ဖန်ပင်လယ်နှင့်ကွာပြီးမှ၊ ဒမာသက်နယ်အနား
၌ဟာဇာဧနန်မြို့၊ မြောက်ထက်၌ဇိဖြန်မြို့၊ ဟာ
မတ်မြို့ပါရမည်။ ဤအရာကား၊ မြောက်ထက် အ
၁၈ ပိုင်းအခြားဖြစ်သတည်း။- အရှေ့ထက်အပိုင်း
အခြားသည် ဟောရန်မြို့၊ ဒမာသက်မြို့၊ ဗိလဒ်
ပြည်၊ ယော်ဒန်မြစ်နား ဣသရေလပြည်နယ်ကို
ရှောက်၍၊ အရှေ့ပင်လယ်၌ ဆုံးရမည်။ ဤအရှေ့
ကား၊အရှေ့ထက်အပိုင်းအခြားဖြစ်သတည်း။-
၁၉ တောင်ထက် အပိုင်းအခြားသည် တာမာမြို့မှစ
၍ ကာဒေရှမြို့၊မေရိဘရေတိုင်အောင်ငှင်၊မဟာ
ပင်လယ် ထဲသို့ ဝင် သော မြစ် တိုင် အောင် ငှင်
ရှောက်သွားရမည်။ ဤအရာကား၊ တောင်ထက်
၂၀ အပိုင်းအခြားဖြစ်သတည်း။-အနောက်ထက်၌
မဟာ ပင်လယ် သည် တောင် ထက်မှစ၍၊ ဟာ
မတ် မြို့ တစတ် တချက် ထိုင်အောင် ပိုင်း ခြား
လျှက်ရှိရမည်။ ဤအရာကား၊ အနောက်ထက်အ
ပိုင်းအခြားဖြစ်သတည်း။

၂၁ ထိုမြေကို ဣသရေလအမျိုး အသီးအသီးတို့
၂၂ အားဝေရမည်။-အမျိုးသားချင်းအား ခွဲခြမ်းနိုင်၊
သင်တို့တွင်နေ၍ သားသမီး ဖွားမြင်သောတပါး
အမျိုးသား၊ ချင်းအမွေခံ ဆိုင်ငှင်၊ စာရေး ထံ၍၍
မြေကို ဝေရမည်။ ထို တပါး အမျိုး သား တို့ ကို
ပြည်၌ ဖွားမြင်သော ဣသရေလ အမျိုးသားကဲ့
သို့ မှတ်ရမည်။ သူတို့ သည် ဣသရေလ အမျိုး
သားတို့နှင့်အတူမြေကို အမွေခံရကြလိမ့်မည်။-
၂၃ တပါးအမျိုးသား နေသောရာရာခမိုင်၌ ထိုအမွေ
ခံစရာမြေကိုပေးရမည်ဟု၊ အရှင်ထာဝရဘုရား
မိန့်တော်မူ၏။

၄၈

၁ ဣသရေလအမျိုးခမိုင်စုအမည်ဟူမူကား၊ မြောက်
ထက် ၌ ဟေသလုန် လမ်း နှင့် ဟာ မတ် လမ်း
နား၊ ဟာဇာဧနန်မြို့ပါလျှက် ဒမာသတ်မြို့ နယ်
မြောက်၊ ဟာမတ်မြို့နယ်တိုင်အောင်ငှင်၊ အရှေ့
ထက်မှသည် ပင်လယ် တိုင်အောင်ငှင် ဒန်ခမိုင်
၂ ရှိရမည်။- ဒန်ခမိုင်အနား၊ အရှေ့ထက်မှသည်
အနောက် ထက် တိုင် အောင် အာရှာ ခမိုင် ရှိရ
၃ မည်။- အာရှာခမိုင်အနား၊ အရှေ့ထက်မှသည်
အနောက် ထက် တိုင် အောင် နဿလိ ခမိုင် ရှိရ
၄ မည်။-နဿလိခမိုင်အနား၊ အရှေ့ထက်မှသည်
အနောက် ထက် တိုင် အောင် မနာရှေ ခမိုင် ရှိရ
၅ မည်။- မနာရှေခမိုင်အနား၊ အရှေ့ထက်မှသည်
အနောက် ထက် တိုင် အောင် ဧဖရိမ် ခမိုင် ရှိရ
မည်။- ဧဖရိမ်ခမိုင်အနား၊ အရှေ့ထက်မှသည်
အနောက်ထက်တိုင်အောင်ရုဗင်ခမိုင်ရှိရမည်။-
၇ ရုဗင်ခမိုင်အနား၊ အရှေ့ထက်မှသည် အနောက်
ထက်တိုင်အောင်ယုဒခမိုင်ရှိရမည်။
၈ ယုဒခမိုင် အနား၊အရှေ့ထက်မှသည်အနောက်
ထက်တိုင်အောင်သင်တို့ပူဇော်ရသောမြေကွက်
ရှိရမည်။ ထိုမြေ အနံကား၊ ကျူ လုံး အခြိန် နှစ်
သောင်းငါးထောင်၊အလျားကား၊ အရှေ့ထက်မှ
သည် အနောက်ထက် တိုင်အောင် ခမိုင်အလျား
နှင့်ညီရမည်။ ထိုမြေအထွင်း၌ သန့်ရှင်းရာဌာန
၉ ရှိရမည်။- ထာဝရဘုရားအား ပူဇော်ရသောမြေ
ကွက်မူကား၊ အလျားနှစ်သောင်းငါးထောင်၊ အ
၁၀ နံ တသောင်းရှိရမည်။-ထိုသန့်ရှင်းသောပူဇော်
သကာသည်ယဇ်ပုရောဟိတ်တို့ဖြစ်၍၊မြောက်
ထက်၌အလျားနှစ်သောင်းငါးထောင်၊အနောက်
ထက်၌ အနံ တသောင်း၊ အရှေ့ထက်၌ အနံတ
သောင်း၊ တောင်ထက်၌ အလျားနှစ်သောင်းငါး

ထောင်ကျွတ်၍သော ဝရဘုရား၏သန့်ရှင်းရာဌာ
၁၁ နသည်ထိုအကွက်အထဲ၌ရှိရမည်။-ဣသရေ
လအမျိုးသားတို့သည်ထမ်းဖွဲ့သောအခါလေဝိ
လူကဲ့သို့ ထမ်းမဖွဲ့၊ ငါ့အမှုကို အစည် စောင့်၍
သန့်ရှင်းသောဇာဒုတ်သားယာဇ်ပုရောဟိတ်တို့
၁၂ အဘို့ဖြစ်ရမည်။-လေဝိလူနေရာမြေအနားမှာထို
သို့ပူဇော်သောမြေသည် ယာဇ်ပုရောဟိတ်တို့အ
၁၃ ဘို့အလွန် သန့်ရှင်းသော မြေ ဖြစ်ရမည်။- ယာဇ်
ပုရောဟိတ် မြေ အ နား မှာ လေဝိ လူ နေရာ မြေ
ကွက်သည်အလျားနှစ်သောင်းငါးထောင်၊ အနံ
၁၄ တသောင်းရှိရမည်။- ထိုမြေသည်ထာဝရဘုရား
အဘို့ သန့်ရှင်း သောကြောင့်၊ လေဝိ လူတို့သည်
မြေကို မ ရောင်းရ၊ အဦး သီးသော အသီးကိုအ
ခြား သော ဥစ္စာ နှင့် မလဲလှယ်ရ၊ အသိုးနှင့် မ
ရောင်းရ။
၁၅ နှစ်သောင်း ငါး ထောင် အနားမှာ ကြွင်းသေး
သောမြေငါးထောင်သည် လူနေရာမြို့နှင့် မြို့နယ်
တည်စရာဘို့ဖြစ်၍၊ ထိုမြေအထဲ၌ မြို့တည်ရ
၁၆ မည်။- မြို့အတိုင်းအရှည်ကား၊မြောက်ဘက်၌
လေးထောင်ငါးရာ၊ တောင်ဘက်၌လေးထောင်
ငါးရာ၊ အရှေ့ဘက်၌ လေး ထောင် ငါးရာ၊ အ
၁၇ နောက်ဘက်၌လေးထောင်ငါးရာရှိရမည်။- မြို့
နယ် ကား၊ မြောက် ဘက် ၌ နှစ် ရာ ငါး ဆယ်၊
တောင်ဘက်၌နှစ်ရာငါးဆယ်၊အရှေ့ဘက်၌နှစ်
ရာငါးဆယ်၊ အနောက်ဘက်၌ နှစ်ရာငါးဆယ်
၁၈ ရှိရမည်။- သန့်ရှင်းသောမြေအနားမှာအလျား
၌ကြွင်းသေးသောအရှေ့ဘက်၌တသောင်း၊ အ
နောက်ဘက်၌ တသောင်းကျယ်သော မြေ၌ ဖြစ်
သော အသီးအနှံသည်၊ မြို့အမှုကို စောင့်သော
၁၉ သူတို့စားစရာဘို့ဖြစ်ရမည်။-မြို့အမှုစောင့်တို့ကို
ဣသရေလအမျိုးအပေါင်းထဲကရွေးကောက်ရ
၂၀ မည်။- ပူဇော်သော မြေကွက်ပေါင်းကား၊ အ
လျားနှစ်သောင်းငါးထောင်၊အနံနှစ်သောင်းငါး
ထောင်ကျယ်၍၊ မြို့နယ်ပါလျက်သန့်ရှင်းသော
ထိုစတုရန်းမြေကိုပူဇော်ရမည်။
၂၁ ထိုသန့်ရှင်းသောပူဇော်သကာမြေနှင့် မြို့နယ်
နှစ်ဖက်၌ကြွင်း၍၊ အရှေ့ဘက်၌နှစ်သောင်းငါး
ထောင်၊ အနောက်ဘက်၌နှစ်သောင်းငါးထောင်
ကျယ်သော မြေစွန်းနှစ်ကွက်တို့သည် မင်းသား
အဘို့ ဖြစ်ရမည်၊ သန့်ရှင်းသော ပူဇော်သကာ
မြေနှင့်ဗိမာန်တော်၏သန့်ရှင်းရာဌာနသည်ထိုနှစ်
၂၂ ကွက် စပ်ကြား မှာ နေရာ ကျရမည်။- ထိုနှစ်
ကြားမှာကျသောလေဝိလူနေရာအပိုင်းအခြား၊
မြို့နယ်အပိုင်းအခြား၊ ပြင်ဘက်နှစ်ဖက်၊ ယုဒ
ခရိုင်၊ ဗင်္ယာမိန်ခရိုင်စပ်ကြားမှာကျသောမြေ၌
သာမှုသည်မင်းသားအဘို့ဖြစ်ရမည်။
၂၃ ကြွင်းသောဣသရေလခရိုင်ဟူမူကား၊ အရှေ့
ဘက်မှသည် အနောက်ဘက်တိုင်အောင်ဗင်္ယာ
၂၄ မိန်ခရိုင်ရှိရမည်။-ဗင်္ယာမိန်ခရိုင်အနား၊ အရှေ့
ဘက်မှသည် အနောက်ဘက်တိုင်အောင်ရှိမောင်
၂၅ ခရိုင် ရှိ ရ မည်။- ရှိမောင် ခရိုင် အနား၊ အရှေ့
ဘက်မှသည်အနောက်ဘက်တိုင်အောင်ဣသခါ
၂၆ ခရိုင်ရှိရမည်။-ဣသခါခရိုင်အနား၊အရှေ့ဘက်
မှသည် အနောက် ဘက် တိုင် အောင် ဇာဗုလုန်
၂၇ ခရိုင်ရှိရမည်။-ဇာဗုလုန်ခရိုင်အနား၊အရှေ့ဘက်
မှသည်အနောက်ဘက် တိုင်အောင် ဂဒ် ခရိုင်ရှိ
၂၈ ရမည်။- ဂဒ် ခရိုင်တောင် ဘက် အပိုင်းအခြား
သည် တာမာ မြို့ မှ စ၍ ကာဒေရှမြို့၊ မေရိဘရေ
တိုင်အောင်၎င်း၊ မဟာ ပင်လယ်ထဲသို့ ဝင်သော
၂၉ မြစ်တိုင်အောင်၎င်းရောက်သွားရမည်။- ဤမြေ
ကား၊ ဣသရေလ အမျိုးအနွယ်တို့ အမွေခံစရာ
ဘို့စာရေးတံချ၍ ဝေရသောမြေ၊ ဤမြေကား သူ
တို့ပိုင်းခြား၍ နေရသောခရိုင် အသီးအသီးဖြစ်
သတည်း၊ဟု၊အရှင်ထာဝရဘုရားမိန့်တော်မူ၏။
၃၀ မြို့မှထွက်ရာတံခါးများဟူမူကား၊ မြို့မြောက်
၃၁ ဘက်၌လေးထောင်ငါးရာကျယ်၍၊-မြို့တံခါးတို့
သည် ဣသရေလ အမျိုး အနွယ်တို့ အမည် ကို
ဆောင်လျက်၊ မြောက်ဘက်၌ရုဗင်တံခါး၊ ယုဒ
တံခါး၊ လေဝိတံခါး၊တည်းဟူသော တံခါး သုံး
၃၂ ပေါက် ရှိရမည်။- မြို့အရှေ့ ဘက်၌ လေးထောင်
ငါးရာ ကျယ်၍၊ ယောသပ်တံခါး၊ ဗင်္ယာမိန်တံ
ခါး၊ ဒန်တံခါး၊တည်းဟူသော တံခါး သုံးပေါက်
၃၃ ရှိရမည်။- မြို့တောင်ဘက်၌ လေးထောင်ငါးရာ
ကျယ် ၍၊ ရှိမောင်တံခါး၊ ဣသခါ တံခါး၊ ဇာဗု
လုန်တံခါး၊ တည်းဟူသော တံခါးသုံးပေါက်ရှိရ
၃၄ မည်။- မြို့အနောက်ဘက်၌ လေးထောင် ငါးရာ
ကျယ်၍၊ ဂဒ်တံခါး၊ အာရှာတံခါး၊ နဿလိတ်တံ
ခါးတည်းဟူသော တံခါးသုံး ပေါက်ရှိရမည်။-
၃၅ ထိုသို့ မြို့ ပတ် ထည် အတိုင်း အရှည် ကား၊ တ
သောင်းရှစ်ထောင်ရှိရလိမ့်မည်၊တည်သောနေ့
မှစ၍ ထိုမြို့ကို ယေဟောဝါရှမ္မ အမည်ဖြင့်ခေါ်
ဝေါ်ရလိမ့်သတည်း။

ပရောဖက်ယေဇကျေလစီရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

# ဒံယေလအနာဂတ္တိကျမ်း။

# BOOK OF DANIEL

၁

၁ ယုဒရှင်ဘုရင်ယောယကိမ်နန်းစံသုံးနှစ်တွင်၊
ဗာဗုလုန် ရှင်ဘုရင်နေဗုခဒ်နေဇာသည် ယေရုရှ
၂ လင်မြို့သို့ ရှိလာ၍ဝန်းရံလေ၏၊-ထာဝရဘုရား
သည်ယုဒရှင်ဘုရင်ယောယကိမ်နှစ၍ ဗိမာန်
တော်တန်ဆာ အချို့တို့ကို နေဗုခဒ်နေဇာ လက်
သို့အပ်နှံ တော်မူ၍၊ ထိုတန်ဆာများကိုနေဗုခဒ်
နေဇာမင်းသည်ရှိနာပြည်၌ရှိသောမိမိဘုရား၏
ကျောင်း သို့ယူ သွားပြီးလျှင်၊ ဘဏ္ဍာတိုက်၌ သွင်း
ထားတော်မူ၏၊
၃ ထိုအခါ ရှင်ဘုရင်သည် မိန္မမိုးအုပ် အာရှပေ
၄ နတ်ကိုခေါ်တော် မူ၍၊- မကောင်းသော အင်္ဂ
ါ ကင်းလွတ်၊ လှသော အဆင်းသဏ္ဌာန်နှင့်
ပြည့်စုံ၍၊ ကောင်းသောညာဏ်နှင့်တကွ အထူး
ထူးအပြားပြားသော အတတ်ပညာများကိုလေ့
ကျက်၍၊ နန်းတော်၌ အမှု ထမ်း ခြင်းငှါ တတ်
စွမ်း နိုင်သော လုလင်တို့ကို ဣသရေလ မင်း မျိုး
မင်းဆွေထဲက ရွေးကောက်၍၊ ခါလဒဲတသော
၅ အတတ်ကိုသင်စေဟု အမိန့်တော်ရှိ၏၊- ပွဲတော်
မှ ကြွင်း သော အစာနှင့် သောက် တော် မူ သော
စပျစ်ရည်ကိုနေ့တိုင်းပေး၍ သုံးနှစ်ကျွေးမွေးပြီး
မှ၊ အမှုတော်ထမ်းရမည်အကြောင်းစီရင်တော်
၆ မူ၏၊-ထိုသူတို့တွင်ယုဒအမျိုးသားဒံယေလ၊ ဟာ
၇ နနိ၊ မိရှေလ၊ အာဇရိတို့သည်ပါကြ၏၊- မိန္မမိုး
အုပ်သည်ထိုသူတို့ကိုအမည်နာမထဲ၍၊ ဒံယေလ
ကိုဗေလတရှာဇာ၊ ဟာနနိကိုရှာဒရက်၊ မိရှေလ
ကိုမေရှက်၊ အာဇရိ ကို အဗေဒနေဂေါ ဟု၊ အ
သီးအသီးအမည်သစ်ကိုပေး၏၊
၈ ဒံယေလ မူကား၊ ပွဲတော်မှ ကြွင်းသော အစာ
နှင့်သောက်တော်မူသောစပျစ်ရည်ကိုမသောက်
မစားဘဲ၊ ညစ်ညူးခြင်းကိုရှောင်မည်ဟု အကြံရှိ
၍၊ မိမိကို မညစ်ညူးစေမည်အကြောင်း၊ မိန္မမိုး
၉ အုပ်ကို အခွင့် တောင်း၏၊- ဘုရား သခင် ပြုစွမ်း
တော်မူသောအားဖြင့်၊ မိန္မမိုးအုပ်သည်ဒံယေလ
၁၀ ကိုအစဉ်ချစ်ထားသော်လည်း၊-သခင်ကြည့်
ရှုစေခြင်းငှါ မိန္မ မိုးအုပ် ခန့် ထား သော စား
တော်ကဲကို ငါကြောက်၏၊ သင် တို့ အစား အ
သောက်ကို စီရင် တော် မူပြီ၊ သင် တို့ မျက် နှာ
သည် အရွယ်တူ လုလင်တို့၏ မျက်နှာ ထက်အ
ဆင်း မလှသည်ကို မြင်တော်မူလျှင်၊ သင်တို့အ
တွက်ငါသည် ရာဇဝတ်သင့်၍ အသက်မလွတ်
၁၁ ရဟုဒံယေလကိုပြောဆို၏၊- ထိုအခါဒံယေလ၊
ဟာနနိ၊မိရှေလ၊အာဇရိတို့ကိုကြည့်ရှုစေခြင်း
ငှါ မိန္မမိုးအုပ် ခန့်ထား သော စားတော်ကဲ ထိုဒံ
၁၂ ယေလက၊- အကျွန်ုပ်တို့ စား သောက်စရာ ဖို့
ဟင်း သီး ဟင်းရွက် နှင့် ရေကို သာ ဆယ် ရက်
၁၃ ပတ်လုံး ပေးစမ်းပါ၊- ထိုနောက်၊ အကျွန်ုပ်တို့
မျက်နှာနှင့်၊ ပွဲတော်မှကြွင်းသောအစာကို စား
သောလုလင်တို့၏မျက်နှာကိုထခင်ရှေ့၌ စစ်တော်
မူပါ၊ ကိုယ်တော်တိုင်မြင်ပြီးမှ၊ အကျွန်ုပ်တို့
၁၄ ကို စီရင်တော်မူပါဟု ပြောလျှင်၊- စားတော်ကဲ
၁၅ သည် ဝန်ခံ၍ ဆယ်ရက် စုံစမ်း လေ၏၊- ဆယ်
ရက်နေ့လျှင်သူတို့မျက်နှာသည်၊ ပွဲတော်မှကြွင်း
သော အစာ ကို စားသော လုလင် အ ပေါင်း တို့၏
၁၆ မျက်နှာထက်အဆင်းလှ၍ ဖွံ့ဝလျှက်ရှိ၏၊- ထို
အခါစားတော်ကဲသည်သူတို့အစာကိုင်၊သူတို့
သောက် ဘို့ စပျစ်ရည်ကိုင် ရုပ်သိမ်း၍၊ ဟင်း
၁၇ သီးဟင်းရွက်နှင့်သာကျွေးမွေး၏၊-ဘုရားသခင်
သည်ထိုလုလင်လေးယောက်တို့အားအထူးထူး
သောသိပ္ပံ အတတ်ပညာတို့ကိုသိစေခြင်းငှါ၊ထိုး
ထွင်း၍ နားလည်နိုင်သောညာဏ်သတ္တိကိုပေး
သနားတော်မူ၏၊ ဒံယေလသည်လည်း၊ ဗျာဒိတ်
ရူပါရုံနှင့်အိပ်မက်ကိုနားလည်နိုင်သောညာဏ်
ပညာနှင့်ပြည့်စုံ၏၊
၁၈ နန်းတော်သို့ သွင်းစေခြင်းငှါ ချိန်းချက်တော်
မူသောအချိန်ရောက်သော်၊ မိန္မမိုးအုပ်သည်လု
လင်များတို့ကိုခေါ်၍နန်းတော်သို့သွင်းလေ၏၊-
၁၉ ရှင်ဘုရင်သည် ထိုလုလင်တို့နှင့် ဆွေးနွေးမေး
မြန်းတော်မူပြီးလျှင်၊ ဒံယေလ၊ ဟာနနိ၊ မိရှေလ၊
အာဇရိ တို့နှင့် တူ သော သူ တ ယောက် မျှ မရှိ
သောကြောင့်၊ သူတို့သည် အထံတော်၌ခစားရ
၂၀ သော အခွင့် အရာကို ရကြ၏၊- ရှင်ဘုရင် မေး

ထော်ရာသမှုသော အံ့တတ် ပညာကို ထိုလုထင်
ထွဲထည်နိုင်ဓိတော်၌ ရှိသမျှသောမာဂုပညာရှိ၊
မေဖင်ထတ်များသုံးတတ် ထာ၍ ဆယ်ဆတတ် ကြ
၂၀ ထည့်ကို ထွေ မြင် တော် မူ၏။— ဓိလေထ ထည်
ထုရှ မင်းကြီး နန်းစံပ၅မနှစ်ထိုင်အောင် ရှိနေသ
ထည်။

၂

၁ ရေမှုစ်ရေဂေ မင်း သည် နန်းစံ နှစ်နှစ် တွင်၊
အိပ်မက်ကို မြင်တော်မူ၍ ထိတ်ထန့် ခြင်းမိတ်ရှိ
သောကြောင့်၊စတ်တော်မပေါ်နိုင်သည်ဖြစ်၍။—
၂ အိပ်မက်တော်ကိုပြန်ပြောစေခြင်းငှါမာဂုပညာ
ရှိ၊ မေဖင်ထတ်၊ သူပြုဆရာ၊ ခါလဲဆရာတို့ကို
ခေါ်ခဲ့ချထုအမိန့်တော်ရှိသည်အတိုင်း၊သူတို့သည်
အထံ တော်သို့ ရောက် ထာ ကြ သည် ရှိသော်၊—
၃ ရှင်ဘုရင်က၊ငါသည်အိပ်မက်ကိုမြင်ပြီ၊ထိုအိပ်
မက်ကိုမသိ၊ နားမလည်သည်ဖြစ်၍ မိတ်မအီမ
၄ သာရှိသည်ထုမိန့်တော်မူ၏။- ခါလဲပညာရှိတို့
ကထည်။ အရှင်မင်းကြီး၊အသက်တော်အစည်
အမြဲရှင်ပါစေ၊ အကျွန်ုပ်တို့အားအိပ်မက်တော်
ကို မိန့်တော်မူပါ၊ အကျွန်ုပ်တို့သည် အနက်ကို
ဖော်ပြပါမည်ထု၊ ရှုရိထာသာဖြင့်လျှောက်ကြ
၅ ၏။—ရှင်ဘုရင်ကထည်း၊ငါ့အမိန့်တော်ရှိပြီ၊ ထို
အိပ်မက်နှင့် အနက်ကို ထင်တို့မလော်မပြလျှင်၊
ထင်တို့ကို အပိုင်းပိုင်းစည်းမည်၊ သင်တို့ အိမ်
၆ များကိုထဥ်းနောက်ချေးပုံဖြစ်စေမည်။-အိပ်မက်
နှင့် အနက်ကို ဖော် ပြ လျှင်၊ ဆုထပ်သပ်ပကာ၊
ဂုဏ်အသရေများကိုငါပေးမည်၊သို့ဖြစ်၍၊အိပ်
မက်နှင့် အနက်ကို ဖော ဖော်ပြကြထု၊ ခါထဲ
၇ ပညာရှိတို့ကိုမိန့်တော်မူ၏။— ထိုသူတို့က၊အရှင်
မင်းကြီးမြင်မက်တော်မူချက်ကို အမိန့်ရှိတော်မူ
ပါ၊ အကျွန်ုပ်တို့သည် အနက်ကို ဖော်ပြပါမည်
၈ ထု ထပ် လျှောက်ကြပြန် လျှင်၊— ရှင်ဘုရင်က၊
ငါအမိန့်တော်ရှိပြီးသောကြောင့်၊ သင်တို့သည်
နေ့ ရက် အချိန် ကာထ ကြာ စေ ခြင်းငှါ ချေချင်
၉ သည့်ကို ငါအမှန်သိ၏။— အိပ်မက်ကို ဖော၊မ
ဖော်မပြလျှင်၊ သင်တို့သည် အကြံ တရ တည်း
သာရှိသည်ဖြစ်၍၊ ကာထ ပြောင်းထဲသည်တိုင်
အောင်၊ ငရှေ့၌ လျှောက်စရာ တို့ ကောက် ကျစ်
ထိမ်ထစ်သောစကားကိုဖွင်ဆင်နှင့်ကြပြီ၊ အိပ်
မက်ကိုပြန်ပြောကြ၊ ထိုသို့ပြောလျှင်၊ အိပ်မက်
အနက်ကို ဖော်ပြနိုင်သည်ကို ငါ သိမည်ထုပြန်
၍မိန့်တော်မူ၏။

၁၀ ခါထဲ ဆရာ တို့က ထည်း၊ အရှင်မင်းကြီး၏
အမှုအရာကိုဖြေနိုင်စည်သူ၊မြေကြီးပေါ်မှာတ
ထောက်မျှမရှိပါ၊ အထထိမည်သောရှင်ဘုရင်
ထည်ဘုန်းတန်ခိုးကြီးသော်ထည်း၊ မာဂုပညာ
ရှိ၊ မေဖင်တတ်၊ ခါထဲ ဆရာတို့ကို ဤသို့ မေး
၁၁ မြန်းထူမရှိပါ။— အရှင်မင်းကြီးမေးမြန်းတော်
မူသောအရာသည်ခက်ခဲသောအရာဖြစ်ပါ၏၊ထူ
ပကတိ နှင့် မဆက် ဆံ သောဘုရား၅တပါး၊ အ
ထံသူမျှ အရှင်မင်းကြီး ရှေ့ တော်၌ မထုတ်မ
ဖော်နိုင်ပါထု၊တဝန်ပြန်ကြား၍လျှောက်ထားကြ
၁၂ ၏။— ထိုစကားကို ကြားတော်မူလျှင် ပြင်းစွာအ
မျက်တော်ထွက်၍၊ ဗာဗုထုန်မြို့၌ ရှိသမျှသော
ပညာရှိတို့ကိုပယ်ရှင်းစေထုအမိန့်တော်ရှိ၏။
၁၃ ထို အမိန့် တော် ဆင့်၍ ဒံယေလ နှင့် သူ၏ အ
ပေါင်းအဖော်တို့ကို သတ်ခြင်းငှါ ရှာကြသော်၊—
၁၄ ဒံယေလက၊ ရှင်ဘုရင်၏ အမိန့် တော်သည့် အ
၁၅ ထယ်ကြောင့် ဤမျှထောက်လျှင်မြန်သနည်းထု၊
ဗာဗုထုန် ပညာရှိတို့ကို ပယ်ရှင်း ခြင်းငှါ ထွက်
သွားသော ကိုယ်ရံ တော်မှူး အာရုတ်ကို ထတိ
ပညာ နှင့် မေးမြန်း၍၊ အာ ရုတ် သည် ထို အ
၁၆ ကြောင်းကိုကြားပြောလျှင်၊-ဒံယေလသည်နန်း
တော်သို့ဝင်၍ အိပ်မက်တော်ကိုဖြေရသော နေ့
ရက် အချိန်ကို ပေးတော်မူမည် အကြောင်း အ
၁၇ သနားတော်ခံပြီးမှ၊— မိမိအိမ်သို့ပြန်သွား၍၊ထို
အကြောင်းကို မိမိ အပေါင်း အဖော်ထာနနိ၊ မိ
၁၈ ရှေထ၊ အာဇရိတို့အားကြားပြော၍၊-ငါတို့သည်
အခြားသော ဗာဗုထုန် ပညာရှိ တို့နှင့်အတူ မ
သေမပျောက်စေခြင်းငှါ၊ ဤနက်နဲသောအရာ၌
ကရုဏာကျေးဇူးတော်ကို ခံရမည့်အကြောင်း၊
ကောင်းကင်ဘုံ ရှင် ဘုရားသခင် ကို ဆု တောင်း
ကြကုန်အံ့ထုပြောဆို၏။
၁၉ ညည့်အခါ ဗျာဒိတ် တော် အားဖြင့် ထိုနက်နဲ
သောအရာကိုဒံယေထအားဘုရားသခင်ဖော်ပြ
၂၀ တော်မူ၏။— ထိုအခါဒံယေထသည် ကောင်းကင်
ဘုံရှင် ဘုရားသခင်၏ ကျေးဇူးတော်ကို ချီးမွမ်း
လျှက်၊ ဘုရားသခင်၏ နာမတော်သည် ထာဝရ
မင်္ဂလာရှိပါစေသတည်း၊ ပညာနှင့်ဒုင်၊အစွမ်း
၂၁ သတ္တိနှင့်ဒုင် ပြည့် စုံတော်မူ၏။— ကာထ အချိန်
ဥတုများကိုပြောင်းထဲစေတော်မူ၏၊ရှင်ဘုရင်တို့
ကိုလည်းနှိမ့်ချချီးမြှောက်တော်မူ၏၊ပညာရှိတို့
အားပညာကိုပေးတော်မူ၏၊ ညာဏ်ရှိသော သို့
တို့သည်ကျေးဇူးတော်အားဖြင့်သာ၊ ထိုးထွင်း

၂၂ ၍နားသည် တတ်ကြ၏။– နက်နဲခက်ခဲသောအ
ရာတို့ကိုထင်ရှားစွာပြတော်မူ၏။မှောင်မိုက်၌ရှိ
သမျှတို့ကိုသိမြင်၍အလင်း၏တည်ရာဖြစ်တော်
၂၃ မူ၏။– အကျွန်ုပ် ဘိုးဘေး တို့ ၏ ဘုရား သခင်၊
အကျွန်ုပ်အား ပညာအစွမ်းသတ္တိကိုပေးသနား
၍၊ အကျွန်ုပ်တို့ ဆု တောင်း သည် အတိုင်း၊ ရှင်
ဘုရင်၏အိပ်မက်ကိုဖွင့်ပြတော်မူသောကျေးဇူး
တော်ကို ချီးမွမ်း ထောမနာပြုပါ၏ဟု ဒံယေလ
၂၄ မြွက်ဆိုပြီးမှ၊–ဗာဗုလုန်ပညာရှိတို့ကိုပယ်ရှင်း
စေခြင်းငှါ၊ ရှင်ဘုရင်ခန့်ထားတော်မူသောအာ
ရုတ်ထံသို့သွား၍၊ဗာဗုလုန်ပညာရှိတို့ကိုမလုပ်
ကြပါနှင့်။ အကျွန်ုပ်ကို အထံတော်သို့ခေါ်သွင်း
ပါ။အကျွန်ုပ်သည်အိပ်မက်တော်နှင့်အနက်ကို
ဖော်ပြ၍ လျှောက်ပါမည်ဟုဆို၏။
၂၅ ထိုအခါ အာရုတ်သည်ဒံယေလကိုအလျင်တ
ဆောအထံတော်သို့ခေါ်သွင်းပြီးလျှင်၊အိပ်မက်
တော်နှင့် အနက်ကို အရှင်မင်းကြီးအား ဖော်ပြ
နိုင်သော သူတယောက်ကို ယုဒ အမျိုး သက်ရ
လူတို့တွင် အကျွန်ုပ် တွေ့ပါပြီဟု လျှောက် ထေ
၂၆ ၏။– ရှင်ဘုရင် ကလည်း၊ ငါမြင်မက်သော အိပ်
မက်ကိုပြန်ပြော၍အနက်ကို ဖော်ပြနိုင်သလော
ဟု၊ ဗေလတရှာဇာ အမည်ရှိသော ဒံယေလကို
၂၇ မေးတော်မူလျှင်၊– ဒံယေလက၊ အရှင်မင်းကြီး
မေးမြန်းတော်မူသော အရာကို ပညာရှိ၊ဗေဒင်
တတ်၊ မာဂုဆရာ၊ အနာဂတ္တိ ဆရာတို့သည် အ
ရှင်မင်းကြီးအားဖော်ခြင်းငှါမတတ်နိုင်ကြပါ။–
၂၈ နက်နဲသော အရာတို့ကို ဖွင့်ပြ၍၊ နောင်ကာလ၌
ဖြစ် လတံ့သော အရာ တို့ကို နေဗုခဒ်နေဇာမင်း
ကြီးအား ကြားပြောတော်မူသော ဘုရားသခင်
၂၉ တဆူသည် ကောင်းကင်ဘုံမှာ ရှိတော်မူ၏။– အ
ရှင်မင်းကြီး၊နောင်၌ ဖြစ်လတံ့သော အရာတို့ကို
ကိုယ် တော် သည် စက် တော် ခေါ်၍ မျှော် လင့်
တော်မူ၏။ နက်နဲ သော အရာကို ဖွင့် ပြတော် မူ
သောဘုရားသည်နောင်ကာလ၌ ဖြစ်လတံ့သော
၃၀ အရာတို့ကို ကိုယ် တော်အား ပြတော်မူ၏။– ဤ
နက်နဲသောအရာကိုကား၊အခြားသောသတ္တဝါ
အပေါင်းတို့ထက် အကျွန်ုပ်သာ၍ ပညာရှိသော
ကြောင့်၊ အကျွန်ုပ်အားဘုရားသခင် ဖွင့်ပြတော်
မူသည်မဟုတ်ပါ။ကိုယ်တော်သည် စိတ်နှလုံး
တော်၏အထင်ကိုနားလည်မည်အကြောင်း၊ ထို
အနက်ကို အကျွန်ုပ်ပြန်ကြားလျှောက်ထား စိမ့်
သောငှါသာဘုရားသခင် ဖွင့်ပြတော်မူ၏။

၃၁ အရှင် မင်း ကြီး၊ စက် တော်ခေါ်၍ မြင်မက်
တော်မူသောရူပါရုံဟူမူကား၊ ကိုယ်တော်သည်
ကြည့်ရှု၍ရုပ်တုကြီးကိုမြင်တော်မူ၏။ထူးခြတ်
သောအရောင်အဝါနှင့်ပြည့်စုံ၍၊ ကြီးမြင့်သော
ထို ရုပ် တု သည် ကြောက် မက် ဖွယ် သော ပုံ
သဏ္ဌာန်ကိုဆောင်လျက်ကိုယ်တော်ရှေ့၌တည်
၃၂ ရှိ၏။–သူ၏ဦးခေါင်းသည်ရွှေစင်ဖြစ်၏။ရင်ပတ်
၃၃ နှင့်လက်နှစ်ဖက်သည်ငွေဖြစ်၏။–ဝမ်းနှင့်ပေါင်
နှစ်ဖက်သည်ကြေးဝါဖြစ်၏။ ခြေသလုံးနှစ်ဖက်
သည် သံဖြစ်၏။ ခြေဖဝါးနှင့် ဖ မိုး သည် သံတ
၃၄ ပိုင်း သရွတ် တပိုင်း ဖြစ် ၏။– ကိုယ် တော်သည်
ကြည့်ရှုတော်မူစဉ်၊ လက်ဖြင့်မထုမလုပ်ဘဲအ
လိုလိုဖြစ်သော ကျောက်တလုံးသည် သံ နှင့် သ
ရွတ်ဖြစ် သော ရုပ်တု၏ ခြေကို ထိခိုက်၍ ချိုးဖဲ့
၃၅ သည် ရှိသော်၊– သံ၊သရွတ်၊ကြေးဝါ၊ငွေ၊ရွှေတို့
သည်ကျိုးပဲ့ကြေမွလျက်၊ နွေကာလ၌ ကောက်
နယ်တလင်း အမှုန့်ကဲ့သို့ ဖြစ်သဖြင့်၊ လေတိုက်
သွင့်၍ သူတို့နေရာမရှိ၊ပျောက်လေ၏။ ရုပ်တုကို
ထိခိုက်သော ကျောက် မူကား၊ တိုးပွား သဖြင့်
တောင်ကြီးဖြစ်၍၊ မြေကြီးတပြင်လုံးကိုဖုံးလွှမ်း
သည်ဟုမြင်မက်တော်မူ၏။
၃၆ ယခုတွင်အိပ်မက်တော်၏အနက်ကိုဖော်ပြ၍
၃၇ နား တော် လျှောက် ပါ မည်။– အရှင် မင်း ကြီး၊
ကိုယ်တော်သည် ဘုရင်တို့၏ ဘုရင် ဖြစ်တော်မူ
၏။ ကောင်းကင် ဘုံ ရှင်ဘုရားသခင် သည် နိုင်ငံ
နှင့်တကွ တန်ခိုးအာနုဘော်အစွမ်းသတ္တိ ဘုန်း
၃၈ အသရေကိုကိုယ်တော်အားပေးတော်မူပြီ။– လူ
နေရာရှိသမျှတို့နှင့်မြေကြီးသားတိရစ္ဆာန်၊မိုးသိး
ကောင်းကင် ငှက်များတို့ကို ကိုယ်တော် လက်၌
အပ်ပေး၍၊ကိုယ်တော်သည်အလုံးစုံတို့ကိုအုပ်
စိုးရသော အခွင့်ရှိတော်မူ၏။ ကိုယ်တော် သည်
၃၉ ရုပ်တု ၏ ရွှေဦးခေါင်း ဖြစ် တော် မူ၏။– ကိုယ်
တော် နောက်၌ ကိုယ် တော်၏ နိုင်ငံ ထောက် မ
မြတ် သော နိုင်ငံ တ ခု သည် တည် ထောင် လိမ့်
မည်။ ထိုနောက်၊ မြေကြီး တပြင်လုံးကို အုပ်စိုး
သောကြေးဝါနိုင်ငံတည်းဟူသောတတိယနိုင်ငံ
၄၀ တည်ထောင် လိမ့်မည်။– စတုတ္ထနိုင်ငံသည် သံ
ကဲ့သို့ ခိုင်မာသော နိုင်ငံဖြစ်လိမ့်မည်။ သံသည်
အခြားသောအရာရှိသမျှတို့ကိုချိုးဖဲ့၍နိုင်သကဲ့
သို့၊ စတုတ္ထနိုင်ငံသည် ချိုးဖဲ့နှိပ်စက် ခြင်းကို ပြု
၄၁ လိမ့်မည်။– ရုပ်တု၏ခြေနှင့် ခြေချောင်းတို့သည်
သရွတ်တပိုင်း သံတပိုင်းရှိသည်ကို မြင်တော်မူ



 

သည့်အတိုင်း၊ အရှင်စွမ်းကဲ့ပြားသောနိုင်ငံဖြစ်
လိမ့်မည်၊ ထို့ကြောင့်သည်။ ရွှံ့သောသစ္စတ်နှင့်
သံရောနှောသည်ကိုမြင်တော်မူသည်ဖြစ်၍၊ သံ
၄၂ သည်မိုင်မာခြင်း၊ အရည်အချင်းရှိလိမ့်မည်။— ခြေချောင်း
ထိုသည် သံတပိုင်း၊ သစ္စတ်တပိုင်း ဖြစ်သည်နှင့်
အညီ၊ ထိုနိုင်ငံ သည် မိုင်မာခြင်းနှင့်ဌင်း၊ ကျိုးပဲ့
၄၃ ခြင်းနှင့်ဌင်း ဆက်ဆံ လိမ့် မည်၊— ရွှံ့သော သ
စ္စတ်နှင့် သံ ရောနှော သည်ကို မြင်တော် မူသည်
နှင့်လျော်စွာ၊ နိုင်ငံသား၊ ထိုသည်အခြားသောလူ
မျိုး၊ သား ထို့ နှင့် ပေါင်း ဖော် ကြ လိမ့် မည်၊ သို့
သော်သည်။၊ သစ္စတ်နှင့် သံမရောနှော နိုင်သကဲ့
သို့၊ သူတို့သည်အချင်းချင်း၊ ပေါင်းဖော်၍ မထင်
၄၄ နိုင်ကြ၊— ထက်နှင့်မထုမထုပ်ဘဲကျောက်တထုံး
၄၅ သည်တောင်ပေါ်က အလိုလိုပဲ့ကွာ၍၊ သံ၊ ကြေး
ဝါ၊ သစ္စတ်၊ ငွေ၊ ရွှေတို့ကိုမှုန့်မှုန့်ဖွဲ့သည်ကိုမြင်တော်
မူသည် အကြောင်း၊ အရာမှာ၊ ဗွက်မီး ခြင်းသို့
မရောက်နိုင်သော နိုင်ငံ တခုကို ထိုမင်းကြီး၊ များ၊
ထက်ထက်၌ ကောင်းကင် ဘုံရှင် ဘုရား၊ အစဉ်
သည်တည်ထောင်စေတော်မူမည်၊ ထိုနိုင်ငံသည်
အခြား သော လူ မျိုး ထက်သို့ မရောက်ရသဲ၊ အ
ထက်ဆိုခဲ့ပြီးသောနိုင်ငံရှိသမျှတို့ကို မှုန့်ဖွဲ့ဖျက်
ဆီး၍ အစဉ်အမြဲတည်လိမ့်မည်၊ ထိုသို့နောင်၌
ဖြစ် ထတ့် သော အရာ တို့ကို ကြီး မြတ် တော် မူ
သော ဘုရားသခင် သည် အရှင် မင်း ကြီး၊ အား
ကြားပြောတော် မူ၏၊ အိပ်မက်တော် ရွှေလျှော
ခြင်း မရှိ၊ အနက်သည်ထည်၊ မှန်ပါ၏ဟု၊ ဒံယေလ
သည်အထံတော်၌လျှောက်ထား၏၊
၄၆ ထိုအခါနေဗုခဒ်နေဇာမင်းကြီးသည်ပြပ်ဝပ်
၍ဒံယေလကိုရှိမိုးကိုးကွယ်ပြီးလျှင်၊ ပူဇော်သ
ကာပြုခြင်းငှါငင်း၊ နံ့သာမျိုးကိုမီး ရှို့၍ ဆက်ကပ်
၄၇ ခြင်း ငှါငင် မိရင် တော် မူ လျှက်၊— ကိုယ် တော်
သည် ဤ နက်နဲ သော အရာကို ဖွင့် ပြ နိုင် သည်
ဖြစ်၍၊ အကယ်စင်စစ်ကိုယ်တော်၏ဘုရားသခင်
သည်ဘုရားတို့၏ဘုရား၊ ဘုရင်တို့၏အရှင်၊ နက်
နဲသော အရာကို ဖွင့်ပြ တော်မူသော သခင်ဖြစ်
၄၈ တော် မူ၏ ဟု မိန့် တော် မူ ၍၊— ဒံယေလကို ချီး
မြှောက် လျှက်၊ များစွာသော ဆုလပ်သပ်ပဏ္ဏာ
တို့ကိုပေး၍၊ ဗာဗုလုန်နိုင်ငံတွင် ဝန်ကြီးအရာ၌
ခန့်၊ ဗာဗုလုန်ပညာရှိတို့ကို အုပ်စိုးသောဝန်အ
၄၉ ရာ၌ခန့် ခန့်ထားတော်မူ၏၊— ထိုအခါ ဒံယေလ
သည်သံတော်ဦးတင်သောကြောင့်၊ မင်းကြီးသည်
ရှာဒရက်၊ မေရှက်၊ အဗေဒနေဂေါ တို့ကိုဗာဗုလုန်
နိုင်ငံတွင်ဝန်အရာ၌ခန့်ထားတော်မူ၏၊ ဒံယေလ
သည်နန်းတော်ဦး၌နေရသေး၏၊

၃

တရံရောအခါ နေဗုခဒ်နေဇာ မင်းကြီး သည်
အမြင့် အ တောင် ခြောက် ဆယ်၊ အနံ ခြောက်
တောင်ရှိသောရွှေရုပ်တုကိုလုပ်ပြီးမှ၊ ဗာဗုလုန်
ကျေးထက်ဒုရလွင်ပြင်၌ တည်ထားတော်မူ၍၊—
၂ စော်ဘွား၊ မြို့ဝန်၊ စစ်ကဲ၊ တရားသူကြီး၊ အခွန်
တော်ဝန်၊ တိုင်ပင်မှူးမတ်၊ မြို့စာရေး၊ နိုင်ငံတော်
အရာရှိ အပေါင်း တို့ သည် မင်း ကြီး တည်ထား
တော်မူသောရုပ်တုကို သာဓုအနုမောဒနာခေါ်
သော ပွဲသို့ စုဝေး စေခြင်းငှါ အမိန့် တော်ရှိ၍၊—
၃ စော်ဘွား၊ မြို့ဝန်၊ စစ်ကဲ၊ တရားသူကြီး၊ အခွန်
တော်ဝန်၊ တိုင်ပင်မှူးမတ်၊ မြို့စာရေး၊ နိုင်ငံတော်
အရာရှိ အပေါင်းတို့ သည် စုဝေးရောက် လာ၍၊
တည်ထားတော်မူသောရုပ်တုရှေ့မှာ ရပ်နေကြ
၄ ၏၊— ထိုအခါသံတော်ဆင့်တယောက်က၊ အသီး
သီး အခြားခြားသော ထာသာ စကားကို ပြော
၅ သောလူအမျိုးမျိုးတို့၊— တံပိုး၊ ခရာ၊ စောင်း၊ ပု
လွေ၊ တယော၊ ပတ်သာအစရှိသောတူရိယမျိုး
တီးမှုတ်ခြင်းအသံကိုကြားသောအခါ၊ နေဗုခဒ်
နေဇာမင်းကြီး တည်ထားတော်မူသောရွှေရုပ်တု
၆ ကိုပြပ်ဝပ်ကိုးကွယ်ရကြမည်၊— မပြပ်ဝပ်မကိုး
ကွယ်ဘဲ နေ သော သူမည် သည် ကို မီး ထောင်
လျှက်ရှိသောမီးဖိုထဲသို့ချက်ချင်းချပြစ်စေဟု၊ အ
၇ မိန့် တော် မြတ် ရှိသည်ဟု ထစ် ကြော်၏၊— ထို
ကြောင့်၊ လူအပေါင်းတို့သည်တံပိုး၊ ခရာ၊ စောင်း၊
ပုလွေ၊ တယော၊ ပတ်သာ အစ ရှိ သော တူရိယ
မျိုး တီးမှုတ်ခြင်း အသံကို ကြားသောအခါ၊ အ
သီးသီး၊ အခြားခြားသောထာသာစကားကိုပြော
သောလူ အမျိုးမျိုး အပေါင်းတို့သည်ပြပ်ဝပ်၍၊
နေဗုခဒ်နေဇာမင်းကြီး တည်ထား သော ရွှေရုပ်
တုကို ကိုးကွယ်ကြ၏၊
၈ ထိုအခါ၊ ခါလဒဲလူအချို့ တို့သည် နေဗုခဒ်နေ
၉ ဇာမင်းကြီး၊ ထံတော်သို့ချဉ်းကပ်လျှက်၊— အရှင်
မင်းကြီး၊ အသက်တော်အစဉ်အမြဲ ရှင်ပါစေ။—
၁၀ တံပိုး၊ ခရာ၊ စောင်း၊ ပုလွေ၊ တယော၊ ပတ်သာ
အစရှိသော တူရိယ မျိုး တီး မှုတ်ခြင်း အသံကို
ကြားသော သူရှိသမျှ တို့သည် ရွှေရုပ်တုကိုပြပ်
၁၁ ဝပ်ကိုးကွယ်ရကြမည်၊— မပြပ်ဝပ်မကိုးကွယ်ဘဲ
နေ သောသူမည်သည်ကို မီးထောင်လျှက်ရှိသော
မီးဖိုထဲသို့ ချပြစ်စေဟု အမိန့်တော်မြတ်ရှိပါ၏။—

၁၂ အရှင်မင်းကြီး၊ ကိုယ်တော်သည်ဗာဗုလုန်နိုင်ငံ
တွင် ဝန်အရာ၌ ခန့်ထားတော်မူသော ယုဒလူ
ရှာဒရက်၊ မေရှက်၊ အဗေဒနေဂေါ အမည်ရှိ
သောသူတို့သည် အာဏာတော်ကို ပမာဏမပြု
ပါ။ ကိုယ်တော်၏ဘုရားတို့ကိုဝတ်မပြုပါ။ တည်
ထားတော်မူသော ရွှေရုပ်တုကို လည်း မကိုး
ကွယ်ပါဟု၊ ယုဒလူတို့ကိုအပြစ်တင်၍လျှောက်
၁၃ ထားကြ၏။ ထိုအခါ နေဗုခဒ်နေဇာ မင်းကြီး
သည်ပြင်းစွာအမျက်ထွက်၍၊ ရှာဒရက်၊ မေရှက်
အဗေဒနေဂေါတို့ကိုခေါ်ချေဟု မိန့်တော်မူသည်
အတိုင်း၊ သူတို့သည်အထံတော်သို့ရောက်လျှင်၊-
ထယ် ရှာဒရက်၊ မေရှက်၊ အဗေဒနေဂေါတို့၊ ငါ၏
ဘုရားတို့ကို ဝတ်မပြုသော၊ ငါတည်ထားသော
၁၅ ရွှေရုပ်တုကိုမကိုးကွယ်သော။- ယခုတွင်တံပိုး၊
ခရာ၊ စောင်း၊ ဂုဏ္ဍ၊ တယော၊ ပတ်သာ အစရှိ
သော တူရိယာမျိုး တီး မှုတ်ခြင်း အသံကို ကြား
သောအခါ၊ ငါထုပ်သော ရွှေရုပ်တုကို ပြပ်ဝပ်
ကိုးကွယ်ခံ့သော ငှါ အသင့် နေကြ၊ သို့မ ထုတ်
လျှင်၊ မီးထောင် လျက် ရှိ သော မီးဖို ထဲသို့ ချက်
ချင်းချပြစ်မည်၊ ငါ၏လက်မှ ကယ်လွှတ်နိုင်သော
ဘုရားကား၊ အဘယ်ဘုရားရှိသနည်းဟုမိန့်တော်
၁၆ မူ၏။- ရှာဒရက်၊ မေရှက်၊ အဗေဒနေဂေါ တို့က
လည်း၊ အရှင်မင်းကြီးနေဗုခဒ်နေဇာ၊ အကျွန်ုပ်
တို့သည်ဤအမှု၌ပြန်လျှောက်ရမည်အကြောင်း
၁၇ မရှိပါ။- အကျွန်ုပ်တို့ကိုးကွယ်သောဘုရားသခင်
သည် မီးထောင်လျက်ရှိသောမီးဖိုထဲကအကျွန်ုပ်
တို့ကို ကယ်လွှတ် နိုင်တော်မူ၏။ ကိုယ်တော်၏
၁၈ လက်မှလည်း ကယ်လွှတ်တော်မူလိမ့်မည်။- ထိုသို့
ကယ်လွှတ်တော်မမူသော်လည်း၊ အရှင်မင်းကြီး၊
ကိုယ် တော်၏ ဘုရား တို့ကို အ ကျွန်ုပ် တို့သည်
ဝတ်မပြုပါ။ တည်ထားတော်မူသောရွှေရုပ်တုကို
လည်း မကိုးကွယ်ပါဟုပြန်လျှောက်ကြ၏။
၁၉ ထိုအခါနေဗုခဒ်နေဇာမင်းကြီးသည်ပြင်းစွာ
အမျက်ထွက်သဖြင့်၊ ရှာဒရက်၊ မေရှက်၊ အဗေဒ
နေဂေါတို့ကိုကြည့်ရှု၍ မျက်နှာတော်ပျက်လျက်၊
မီးဖိုကို အရင်ထက် ခုနှစ်ဆတိုး၍ ပူစေခြင်းငှါ
၂၀ ၎င်း၊- ခွန်အားကြီးသော စစ်သူရဲတို့သည် ရှာဒ
ရက်၊ မေရှက်၊ အဗေဒနေဂေါတို့ကိုတုပ်နှောင်၍၊
မီးထောင်လျက်ရှိသောမီးဖိုထဲသို့ချပြစ်စေခြင်း
၂၁ ငှါ၎င်း အမိန့်တော်ရှိသည် အတိုင်း၊- ထိုသူသုံး
ယောက်တို့ကို ပေါင်းဘီ၊ အင်္ကျီ၊ ဝတ်လုံ အစရှိ
သည်တို့နှင့်တကွတုပ်နှောင်၍၊ မီးထောင်လျက်
၂၂ ရှိသော မီးဖို ထဲသို့ ချ ပြစ် ကြ သောအခါ၊- ရှင်
ဘုရင်၏အမိန့်တော်ကြပ်တည်း၍ မီးဖိုသည်အ
လွန်ပူသောကြောင့်၊ ရှာဒရက်၊ မေရှက်၊ အဗေဒ
နေဂေါတို့ကို ဆွဲချသောသူတို့သည် မီးလျှံအရှိန်
ကြောင့်သေကြ၏။- ထိုသူသုံးယောက်တို့မူကား၊
တုပ်နှောင်လျက် ပြင်းစွာ ထောင် သော မီးဖို ထဲ
သို့ကျရောက်လေ၏။
၂၄ ထိုအခါနေဗုခဒ်နေဇာမင်းကြီးသည် စိုးရိမ်
မိန်းမော၍ အလျင်တဆော ထပြီးလျှင်၊ လူသုံး
ယောက် တို့ ကို တုပ် နှောင် ၍ မီး ထဲသို့ ချပြစ်
သည် မဟုတ်လောဟု၊ တိုင်ပင်မှူးမတ်တို့အား
မေး တော် မူ၏။ မှူးမတ် တို့က လည်း၊ မှန် ပါ၏
၂၅ ဘုရားဟုပြန်လျှောက်ကြလျှင်၊- ရှင်ဘုရင်ကလူ
လေးယောက်တို့သည်မတုပ်မနှောင်ဘဲမီးထဲ၌
သွားလာ၍ဘေးဥပါဒ်နှင့် ကင်းလွတ်သည်ကို
ငါမြင်သည်တကား၊ စတုတ္ထသူသည်ဘုရားသား
၂၆ ၏အဆင်းသဏ္ဌာန်ရှိသည်ဟုမိန့်တော်မူ၍၊- မီး
ထောင်လျက်ရှိသောမီးဖိုဝနားသို့ချဉ်းကပ်ပြီး
လျှင်၊ အမြင့်ဆုံးသော ဘုရားသခင်၏ကျွန်၊ ရှာ
ဒရက်၊ မေရှက်၊ အဗေဒနေဂေါတို့၊ ထွက်၍လာ
ကြလော့ဟုမိန့်တော်မူသည်အတိုင်း၊ သူတို့သည်
၂၇ မီးထဲကထွက်လာကြ၏။- စော်ဘွား၊ မြို့ဝန်၊ မင်း
ကဲ၊ အတွင်းဝန်တို့သည် ဝိုင်း၍ မီးမထောင်နိုင်
သောထိုသူတို့ကိုကြည့်ရှုကြ၏။ သူတို့ဆံခြည်တ
ပင်မျှမကျွမ်း၊ ဝတ်လုံသည်းခြားနားခြင်းမရှိ၊ မီး
ထောင်... သောအနံ့ထည်းကင်းလွတ်၏။
၂၈ နေဗုခဒ်နေဇာ မင်းကြီး ကလည်း၊ ရှာဒရက်၊
မေရှက်၊ အဗေဒနေဂေါတို့၏ဘုရားသခင်သည်
မင်္ဂလာရှိတော်မူစေသတည်း၊ မိမိတို့ဘုရားမှတ
ပါး အခြားသောဘုရားကို ဝတ်ပြုကိုးကွယ်ခြင်း
နှင့်ကင်းလွတ်မည်အကြောင်း၊ ဘုရားသခင်ကို
ယုံကြည်ကိုးစား၍ မင်းကြီးအမိန့်တော်ကို ဆန့်
ကျင်၊ မိမိတို့ကိုယ်ကိုပင်အပ်နှံသော ကျွန်တော်
ရင်းတို့ ရှိရာသို့၊ ထိုဘုရား သခင်သည် ကောင်း
ကင်တမန်ကို စေလွှတ်၍ ကယ်ထင်တော်မူပြီ။-
၂၉ ထိုကြောင့်၊ အရပ်ရပ်တို့၌နေ၍ အသီးသီးအခြား
ခြားသော ဘာသာ စကားကို ပြော သော လူအ
မျိုးမျိုးတို့တွင် တစုံ တယောက် သော သူသည်၊
ရှာဒရက်၊ မေရှက်၊ အဗေဒနေဂေါတို့၏ ဘုရား
သခင် အားပြစ်မှားသောစကားကိုပြောလျှင်၊ ထို
သူကို အပိုင်းပိုင်း ဖြတ်စေ၊ သူ၏အိမ်ကိုလည်း
နောက်ချေးပုံ ဖြစ်စေဟု ငါ အမိန့်တော်ရှိ၏။ အ

ကြောင်းမူကား၊ ထိုမျှထောက်သော ကယ်တင်
ခြင်းကို ထိုဘုရားသခင်မှတပါး အခြားသော ဘုရား
၃၀ မျှမပြုနိုင်ဟု မိန့်တော်မူပြီးမှ၊– ဗာဗုလုန်နိုင်ငံ
တွင်ရှာဒရက်၊မေရှက်၊ အဗေဒနေဂေါတို့ကိုချီး
မြှောက်တော်မူ၏။

၄

၁ ငါ နေဗုခဒ်နေဇာ မင်းကြီး ကြား၍ မှာ ထိုက်
သည်။မြေကြီးတပြင်လုံး၌အရပ်ရပ်နေ၍အသီး
သီး အခြားခြား သော ဘာသာ စကားကို ပြော
သောလူမျိုးတကာတို့၊သင်တို့၌ငြိမ်ဝပ်ချမ်းသာ
၂ ခြင်းများပြားစေသော။– မြင့်မြတ်တော်မူသော
ဘုရားသခင် သည် ငါ၌ ပြုတော် မူသော နိမိတ်
လက္ခဏာ၊ အံ့ဩဘွယ်သော အမှု တို့ကို ပြခြင်းငှါ
၃ ငါ အထိုမှိ၏။– နိမိတ်လက္ခဏာ တော်သည် အ
သွန်ကြီးပေ၏၊ အံ့ဩဘွယ်သော အမှု တော်လည်း
တန်ခိုးနှင့်ပြည့်စုံပေ၏။ ဘုရားသခင်၏နိုင်ငံတော်
သည် ထာဝရ နိုင်ငံဖြစ်၏။ အာဏာ စက်တော်
သည်းကျွန်ုပ်အဆက်ဆက်တည်တော်မူ၏။
၄ ငါနေဗုခဒ်နေဇာသည်နန်းတော်၌ငြိမ်ဝပ်စွာ
၅ နေ၍ စည်းစိမ် ကြီးစည် အခါ၊– ကြောက် မက်
ဘွယ်သော အိပ်မက်ကို မြင်၍၊ သာလွန်ပေါ် မှာ
အိပ်လျက် စိတ်ထဲ၌ အာရုံပြုသော ရူပါရုံ အား
၆ ခြင့် တုန်လှုပ် ခြင်းသို့ ငါ ရောက် လေ၏။– ထို
ကြောင့်၊ အိပ်မက်အနက်ကို င အား ဖော် ပြ စေ
ခြင်းငှါ၊ ဗာဗုလုန်ပညာရှိအပေါင်းတို့ကိုအထံ
တော်သို့ သွင်းစေဟု ငါအမိန့် တော် ရှိသည် အ
၇ ထိုင်။–မာဂုပညာရှိ၊ဗေဒင်တတ်၊ခါလဒဲဆရာ၊
အနာဂတ္တိ ဆရာ တို့သည် ဝင်ကြလျှင်၊ ငါ မြင်
မက်သောအိပ်မက်ကို သူတို့အား ပြပြောသော်
လည်း၊သူတို့သည်အနက်ကိုမဖော်မပြနိုင်ကြ။–
၈ နောက်မှ ငါ ကိုးကွယ်သော ဘု ရား၏ နာမ အား
ဖြင့် ဗေလတရှာဇာဟု ခေါ်သ ရတ်၍၊ သန့်ရှင်း
သော ဘုရားသခင် ၏ ဝိညာဉ်တော် နှင့် ပြည့် စုံ
၉ သောဒံယေလသည် င ထံသို့ ဝင်လာ လျှင်၊– အ
ချင်းမာဂုဆရာ ချုပ်ဗေလတရှာဇာ၊ သင်သည်
သန့်ရှင်းသော ဘုရားသခင်၏ ဝိညာဉ်တော်နှင့်
ပြည့်စုံသည်ကိုငှင်၊ နက်နဲသောအရာရှိသမျှတို့
ကိုဖွင့်ပြနိုင်သည်ကိုငှင်ငါသိ၏။ သို့ဖြစ်၍၊ငါမြင်
မက် သော အိပ်မက်၏အနက်ကို ဖော်ပြလော့။–
၁၀ ငါ အိပ်ပျော် စည်တွင် မြင် မက် သည် ကား၊ ငါ
ကြည့်ရှု၍ မြေကြီး၊အလယ်၌အရပ်မြင့်လှသော
၁၁ သစ်ပင် တပင်ရှိ၏။– ထိုအပင်သည် ကြီးပွား၍

ခိုင်မာခြင်းသို့ ရောက်၏။ မိုဃ်း ကောင်းကင်တိုင်
၁၂ ထိ၍ မြေကြီးစွန်း တိုင်အောင် ထင်ရှား၏။– အ
ရွက်လည်းလှ၏၊ သတ္တဝါအပေါင်းတို့ စား၍ဝ
လောက်သော အသီးနှင့်ပြည့်စုံ၏၊ မြတ်ိရိစ္ဆာန်
တို့သည် ထိုသစ်ပင်အရိပ်၌ခိုကြ၏၊ အခက် အ
လက်တို့၌ကောင်းကင်ငှက်တို့သည်နားနေကြ၏။
၁၃ အိပ်ပျော်၍ မြင်မက်စည်၊ တပန် ငါ ကြည့်ရှု
ပြန်လျှင်၊သစ်ပင်စောင့်တည်းဟူသောသန့်ရှင်း
သူတယောက်သည်ကောင်းကင်မှဆင်းသက်၍။–
၁၄ သစ်ပင်ကိုခုတ်လှဲလော့၊အခက်တို့ကိုခုတ်လော့၊
အသီး အရွက် တို့ကို လှုပ်ခြွေလော့၊ တိရိစ္ဆာန်
တို့ သည် သစ်ပင် အောက်က ထွက် ၍၊ ငှက်တို့
သည်လည်း၊ အကိုင်းအခက်ထဲက လွှားကြစေ-
၁၅ သို့သော်လည်း၊ မြေ၌ ရှိသော အမြစ် နှင့်ထက္ခ
သစ်ငုတ်ကို ကြွင်းထား၍၊ သံကြိုး၊ ကြေးဝါ ကြိုး
နှင့်ချည်နှောင်သကဲ့သို့ ရှိသောမြက်ပင်ထဲ၌ရှိစေ
လော့၊ ကောင်းကင်ပတ်လုံးမိုဃ်းစွတ်ခြင်းကိုခံ၍၊
တိရိစ္ဆာန် တို့နှင့် အတူ ဆက်ဆံ လျက် မြက် ပင်
၁၆ ကို စား စေလော့။– လူ စိတ် သဘော ပြောင်း၍
၁၇ တိရိစ္ဆာန်စိတ်သဘောနှင့်ပြည့်စုံစေလော့။– အ
ကြောင်းမူကား၊ အမြင့် ဆုံး သော ဘုရား သည်
လောကီ နိုင်ငံကို အုပ်စိုးတော် မူ သည် ကို ၎င်း၊
ပေးလိုသောသူတို့အား ပေးတော်မူသည်ကို၎င်း၊
ယုတ်မာ သော သူတို့ကို ချီးမြှောက် ၍ နိုင်ငံ ကို
အပ်ပေးတော်မူသည်ကို၎င်း၊ သတ္တဝါတို့သိနား
လည် ရသော အ ခွင့် ရှိစေခြင်းငှါ၊ သစ်ပင်စောင့်
တို့သည် ဤသို့စီရင်ကြပြီ၊ သန့်ရှင်းသူတို့သည်
အမိန့်တော်ကိုပေးကြပြီဟု ထစ်ကြော်လေ၏။–
၁၈ ထိုသို့ငါနေဗုခဒ်နေဇာမင်းကြီးသည်မြင်မက်ရ
ပြီ၊ ယခုတွင်အချင်းဗေလတရှာဇာ၊ငါမြင်သော
အိပ်မက် အနက် ကို ဖော် ပြ လော့၊ င နိုင်ငံတွင်
ပညာရှိ အပေါင်း တို့သည် အနက်ကို ငအား မ
ဖော် မပြ နိုင်သော်လည်း၊ သင်သည် သန့်ရှင်း
သောဘုရားသခင်၏ဝိညာဉ်နှင့်ပြည့်စုံ၍ဖော်ပြ
နိုင်သည်ဟု၊ ငါသည် ကိုယ်မြင်သောအိပ်မက်
ကို ဒံယေလအားပြန်ပြော၏။
၁၉ ထိုအခါဗေလတရှာဇာအမည်ရှိသောဒံယေ
လ သည် တနာရီ လောက် မိန်းမော တွေဝေ၍
စိတ်ပူပန်လျက်နေ၏။ရှင်ဘုရင်က၊အချင်းဗေလ
တရှာဇာ၊ အိပ်မက် အနက် အမိဖ္ဘယ် ကြောင့်
ပူပန်သောစိတ်မရှိပါနှင့်ဟုမိန့်တော်မူ၏။ဗေလ
တရှာဇာကလည်း၊ အရှင်ဘုရား၊ ကိုယ်တော် ကို

ရုန်းသောရန်သူတို့အပေါ်၌ ဤဖိစ်မတ်အနုတ်
၂၀ ရောက်ပါစေသော။- မြင်မတ်တော်ရုစည်တွင်
ကြီးပွား၍မိုင်မာထသော၊ မိုဃ်းကောင်းကင်သို့
၂၁ ထိ၍မြေကြီးတပြင်လုံး၌ထင်ရှားထသော။- အ
ရွက် ဖူ လျက်၊ သတ္တဝါ အပေါင်း ထို့ စား၍ ဝ
သောက်သော အသီး နှင့် ပြည့်စုံ ထသော၊ မြေ
တိမိရိန္ဒာန်တို့သည် အောက်၌ နေကြ ထမြင့်၊ အ
ခက်အလက်တို့၌ ကောင်းကင် ငှက်များ မှီခိုနား
၂၂ နေရာဖြစ်သော သစ်ပင်ထည်၊- အရှင်မင်းကြီး
ကိုယ်တော်ပင်ဖြစ်ပါ၏၊ ကိုယ်တော်သည် ကြီး
ပွား၍ ခွန်အားနှင့်ပြည့်စုံတော်မူ၏၊ တုန်းစည်း
စိမ်တော်ကြီးမြင့်၍မိုဃ်းကောင်းကင်သို့ထိ၏၊
အာဏာ စက်တော် ထည်း၊ မြေကြီး စွန်း ထိုင်
အောင်ရောက်တော်မူ၏၊
၂၃ သစ်ပင်ခေါင့်၊ သန့်ရှင်းသူ တယောက်သည်
ကောင်းကင်မှဆင်းသော၍၊သစ်ပင်တို့ခုတ်လှဲပြီး
ဖျက်ဆီးထော့၊ ထိုသော်ထည်း၊ မြေ၌ စွဲသော
အမြစ်နှင့်တကွသစ်ငုတ်ကို မြှင်းထား၍သံကြိုး
ကြေးဝါကြိုးနှင့်ချည်နှောင်သကဲ့သို့စေသောမြက်
ပင်ထဲ၌မှီစေထော့၊ ခုနှစ်နှစ်ပတ်လုံးမိုဃ်းစွတ်
ခြင်းကိုခံ၍၊မြေတိမိရိန္ဒာန်တို့နှင့်ဆတ်ထံစေထုဆို
၂၄ သည့်မှာ၊-အမြင့်ဆုံးသောဘုရားသခင်မိန့်ရင်တော်
မူ၍၊ အရှင်မင်းကြီးအပေါ်၌ရောက်ရသောမြင်
၂၅ မတ်တော်မူချက် ၏ အနက် ဟူ မူကား။- ကိုယ်
တော်ကို လူစုထဲက နှင်ထုတ်၍၊ မြေတိမိရိန္ဒာန်
တို့နှင့် အတူ နေရာ ချကြ လိမ့်မည်၊ အမြင့်ဆုံး
သော ဘုရားသည် သောကီ နိုင်ငံကို အုပ်မိုး၍၊
ပေးလို သော သူတို့အား ပေးတော် မူ သည် ကို
ကိုယ်တော် မသိ မမှတ် မှီကာလ၊ ခုနှစ် နှစ် ပတ်
လုံး နွားကဲ့သို့ မြက်ကို စား၍၊ မိုဃ်းစွတ်ခြင်း
၂၆ ကိုခံလျက်နေရမည်။- သစ်မြစ်၊သစ်ငုတ်ကိုမြှင်း
ထားစေခြင်းငှါမိန့်ရင်ကြသည်အရာမှာ၊ကောင်း
ကင်ဘုံသည် အုပ်မိုးကြောင်းကို ကိုယ်တော်သိ
ပြီးသောနောက်၊နိုင်ငံတော်သည်ထက်တော်မှမ
ရွေ့ဘဲတည်လိမ့်မည်။- သို့ဖြစ်၍၊အရှင်မင်းကြီး၊
အကျွန်ုပ်စကားကိုနာယူတော်မူပါ၊တရားသော
အမှုကိုပြုခြင်း၊ဆင်းရဲသောသူတို့ကိုသနားခြင်း
အားဖြင့် ဒုစရိုက်အပြစ်တို့ကိုပယ်ဖြတ်တော်မူ
ပါ၊ ထိုသို့ပြုလျှင်၊ ချမ်းသာရကောင်းရတော်မူ
လိမ့်မည်ဟုဝံယေထလျှောက်ထား၏၊
၂၇ ထိုအမှုအရာ အလုံးစုံတို့သည် နေဗုခဒ်နေဇာ
မင်းကြီး အပေါ်သို့ ရောက် သည် အကြောင်း၊

၂၈ ကား။- တဆယ်နှစ်လ လွန်ပြီးသော်၊ ဗာဗုလုန်
၂၉ နန်းတော် ပေါ်မှာ စကြံသွားလျက်၊- ဤမြို့သည်
ငါနိုင်ငံတည်ရာ၊ ဘုန်းတော်ကိုပြုံးမြောက်ရာ
ဖို့၊ ငါတန်ခိုးအာနုဘော်အားဖြင့် ငါတည်ထုပ်
သော ဗာဗုလုန် မြို့ကြီးမဟုတ်သလော ဟု မြွက်ဆို
၃၀ ၏။-ထိုစကားကိုမြွက်ဆိုစဉ်ပင်၊ကောင်းကင်မှ
ထွက်ရောက်သော အသံဟူမူကား၊ အို နေဗုခဒ်
နေဇာမင်းကြီး၊ နား ထောင် ထော့၊ နိုင်ငံ တော်
၃၁ သည်သင့်ထံမှ ရွေ့သွားပြီ။- သင့်ကို လူစုထဲ
က နှင်ထုတ်၍၊ မြေတိမိရိန္ဒာန်တို့နှင့်အတူ နေရာ
ချကြ လိမ့်မည်၊ အမြင့် ဆုံးသော ဘုရား သည်
သောကီနိုင်ငံကို အုပ်မိုး၍၊ ပေးလိုသော သူတို့
အား ပေးတော်မူသည်ကိုမင်းကြီး မသိမမှတ်မှီ
ကာလ၊ ခုနှစ်နှစ်ပတ်လုံး နွားကဲ့သို့ မြက်ကိုစား
၃၂ လျက် နေရမည်ဟု အသံဖြစ်သော်၏။- ထိုခဏ
နှင့်အညီနေဗုခဒ်နေဇာ၌ရှိချက်ချင်းဖြစ်၍၊လူစုထဲ
က နှင်ထုတ်ကြလျှင်၊ သူသည် နွားကဲ့သို့မြက်ကို
စား၍ မိုဃ်းစွတ်ခြင်းကို ခံသမြင့်၊ ကိုယ်အမွှေး
သည် ရွှေ လင်း တ အတောင် ကဲ့ သို့ ငှက်၊ လက်
သည်း ခြေသည်းတို့သည် ငှက်ခြေသည်းကဲ့သို့
ငှင်ဖြစ်၏၊
၃၃ ကာလအချိန်စေ့သောအခါ၊ ငါနေဗုခဒ်နေဇာ
သည် ကောင်းကင်သို့ မျှော်ကြည့်၍သတိရမြဲ
လျှင်၊အမြင့်ဆုံးသောဘုရားကိုကောင်းကြီးပေး
၍၊ ထာဝရ အသက်ရှင်တော်မူသော ဘုရားကို
ချီးမွမ်း ထော မနာ ပြု၏၊ အာဏာ တော် သည်
ထာဝရ အာဏာဖြစ်၏၊ နိုင်ငံတော်သည်ကမ္ဘာအ
၃၄ ဆက်ဆက်တည်၏။- မြေကြီးသားအပေါင်းတို့
သည်ရှေ့တော်၌ အထယ်မျှမဟုတ်သကဲ့သို့ ဖြစ်
ကြ၏၊ ကောင်းကင်ဗိုလ်ခြေတို့၌ ၎င်း၊ မြေကြီးသား
တို့၌၎င်း၊ အလိုတော်ရှိသည်အတိုင်းစီရင်ပြုမှု
တော်မူ၏၊ လက် တော် ကို အထယ်သူမျှ မတား
တားနိုင်၊ အဘယ်သို့ပြုသနည်းဟု၊ ကိုယ်တော်
၃၅ ကို ဆိုနိုင်သောသူမရှိ။- ထိုအခါ ငါ၏ပကတိ
ဖြစ်ပြန်၍၊ နိုင်ငံ၏အသရေထို့ထမြန်ကဲ့သို့ထော့
တယ်ခြင်း၊ အရောင်အဆင်းနှင့် ပြည့်စုံ၍၊ ထိုမှ
ပင်သော မှူးတော် မတ်တော် တို့သည် ညီလာခံ
ခင်ကြလျှင်၊ ငါ၏အာဏာတည်မြဲ တည်၏၊ ဂ
ဘုန်းအာနုဘော်သည်ယခင်ထက်ထိုးပွား၏။-
၃၆ ယခုတွင် ငါနေဗုခဒ်နေဇာသည် ကောင်းကင်ဘုံ
၏အရှင်ဘုရားသခင်ကို ချီးမွမ်း ထော မနာပြု၏၊
စီရင်စန့်ထင်းတော်မူသမျှသော အကျင့်တို့သည်

သခ္ချာနှင့်ပြည့်စုံ၍ တရားနှင့် ညီလျော် ကြ၏။
မာန ထောင် လွှား သော သူတို့ကို နှိမ့် ချခြင်းငှါ
တတ်နိုင်တော်မူ၏ဟု၊ အမိန့်တော်ကိုအရပ်ရပ်
သို့ပြန့်စေတော်မူ၏။

၅

၁ တရံရောအခါ ဗေလရှာဇာမင်းကြီးသည်မှူး
မတ်တထောင်ကိုခေါ်ပြီးလျှင် ကြီးစွာသော ပွဲ
ကိုလုပ်၍၊ မှူးမတ်တထောင် နှင့်အကွ စပျစ်ရည်
၂ ကိုသောက်တော်မူ၏။– စပျစ်ရည်ကိုမြည်းစမ်း
သောအခါ၊ ယေရုရှလင်မြို့ ဗိမာန်တော်ထဲက
ခမည်းတော် နေဗုခဒ်နေဇာ သိမ်း ယူ ဆောင် ခဲ့
သော ရွှေဖလား၊ ငွေဖလား တို့နှင့် ကိုယ်တော်
တိုင်မှစ၍ မင်းသား၊ မိဖုရား၊ မောင်းမမိဿံတို့
သည် သောက်ရမည်အကြောင်း၊ ထိုဖလား တို့
ကိုယူခဲ့ရမည်ဟု အမိန့်တော်ရှိသည် အတိုင်း၊–
၃ ယေရုရှလင်မြို့၌ ရှိသောဘုရားသခင်၏ဗိမာန်
တော် တိုက်ထဲက သိမ်း ယူ ဆောင် ခဲ့ သော ရွှေ
ဖလားတို့ကိုယူခဲ့၍၊ မင်းကြီး၊ မင်းသား၊ မိဖုရား၊
မောင်းမမိဿံတို့သည်ထိုဖလားတို့နှင့်သောက်
၄ ကြ၏။– စပျစ်ရည်ကိုသောက်၍၊ ရွှေဘုရား၊ ငွေ
ဘုရား၊ ကြေးဝါ ဘုရား၊ သံ ဘုရား၊ သစ် သား
ဘုရား၊ ကျောက်ဘုရားတို့ကိုချီးမွမ်းကြ၏။
၅ ထိုအချိန်နာရီတွင်လူ၏လက်ဖျားသည်ပေါ်
ထ၍ မီးခုံအထက်၊ နန်းတော် အုတ်ထရံ အင်္ဂ
တေ၌ အက္ခရာ တင်၍ ရေးထား၏။ ထိုသို့ ရေး
သောလက်ဖျားကို ရှင်ဘုရင် မြင်တော်မူလျှင်၊–
၆ မျက် နှာ တော် ညှိုး ငယ်၍ စိတ် ပူ ပန် ခြင်း ထို့
ရောက်သဖြင့်၊ခါးဆစ်ပြုတ်မတတ်ဖြစ်၍ဒူးချင်း
၇ ထိခိုက်သည်ရှိသော်၊–ဗေဒင်တတ်၊ ခါလဒဲဆရာ၊
အနာဂတ္တိဆရာတို့ကို ခေါ်ချေဟု တစ်ကြော်ပြီး
လျှင်၊ ထိုစာကိုဖတ်၍အနက်ကို ဖော်ပြနိုင်သော
သူသည်အဝတ်နီကိုဝတ်ဆင်၍လည်ပင်း၌ ရွှေ
စလွယ်ဆွဲလျက်၊နိုင်ငံတော်တွင်တတိယမင်းဖြစ်
စေဟု၊ ဗာဗုလုန်ပညာရှိတို့အား အမိန့်တော်ရှိ
၈ ၍၊– ပညာရှိ ဆရာတော်အပေါင်း တို့သည် လာ
ရောက်ကြသော်လည်း၊ ထိုစာကို မဖတ်နိုင်ကြ။
အနက် အဓိပ္ပာယ်ကို ရှင်ဘုရင် အား မ ဟော မ
၉ ပြောနိုင်သောကြောင့်၊– ဗေလရှာဇာ မင်းကြီး
သည်အလွန်စိတ်ပူပန်ခြင်း၊ မျက်နှာတော်ညှိုး
ငယ်ခြင်းရှိ၍၊ မှူးတော် မတ်တော် တို့သည် မှိုင်
တွေကန်နေကြ၏။
၁၀ ထိုအခါ မယ်တော် မိဖုရားသည် ရှင်ဘုရင်၏
စကား၊ မှူးမတ်တို့၏စကားကို ကြားသိလျှင်၊ ပွဲ
တော်သို့ဝင်၍ အရှင်မင်းကြီး၊ အသက်တော်အ
စဉ်အမြဲ ရှင်ပါစေ။ စိတ်တော် ပူပန်ခြင်းမရှိပါ
၁၁ နှင့်။ မျက်နှာညှိုးငယ်တော်မမူပါနှင့်။–သန့်ရှင်း
သော ဘုရားသခင် ၏ ဗိညည် တော်နှင့် ပြည့် စုံ
သောသူတယောက်သည်နိုင်ငံတော်တွင်ရှိပါ၏။
ခမည်းတော်ဘုရားလက်ထက်တော်၌၊ ထိုသူတွင်
ဘုရားပညာနှင့် တူသော ပညာ ဥာဏ် သတ္တိ
ထင်ရှားလျက် ရှိပါ၏။ ထိုသူကို ခမည်း တော်
ဘုရားနေဗုခဒ်နေဇာမင်းကြီးသည်မာဂုပညာရှိ၊
ဗေဒင်တတ်၊ ခါလဒဲဆရာ၊ အနာဂတ္တိဆရာတို့အ
ပေါ်တွင် ဆရာအုပ်အရာ၌ ခန့်ထားတော်မူ၏။–
၁၂ အကြောင်းမူကား၊အိပ်မက်အနက်ကိုဖတ်ခြင်း၊
နက်နဲခက်ခဲသောအရာကို ဖွင့်ပြခြင်း၊ ပုစ္ဆာအ
မေးကို ဖြေခြင်းငှါ တတ်စွမ်းနိုင်သော ဥာဏ်
ပညာနှင့်တကွ၊ထူးဆန်းသောစိတ်ဝိညည်သည်
ဗံလေသ အမည် ရှိသော ထို သူ တွင် ထင် ရှား
လျက်ရှိပါ၏။ ဗေလတရှာဇာ ဟူသော ဘွဲ့နာမ
ကိုလည်း ရှင် ဘုရင် ပေး သနား တော် မူ ၏။ ထို
ဒံယေလကို ခေါ်တော်မူလျှင်၊ အနက်ကို ဟော
၁၃ ပြောပါလိမ့်မည်ဟု လျှောက် သော်၊– ဒံယေလ
ကိုအထံတော်သို့ခေါ်သွင်းလေ၏။ ရှင်ဘုရင်က၊
ခမည်းတော်ဘုရားသည် ယုဒပြည်ကသိမ်းယူ
တော်မူခဲ့၍၊ ယုဒလူစု၌ ပါသောဒံယေလ မှန်သ
၁၄ လော။–သင်သည်ဘုရားသခင်၏ဝိညည်နှင့်၎င်း၊
ထူးဆန်းသောပညာဥာဏ်သတ္တိနှင့်၎င်းပြည့်စုံ
၁၅ သည်ဟု၊ သင်၏သိတင်းကိုငါကြား၏။– ထိုစာ
ကိုဖတ်၍ အနက်ကို ငါ့အား ဖော် ပြ စေခြင်းငှါ
ဗေဒင်တတ်၊ ပညာရှိတို့ကို ငါ ထံသို့ သွင်းသော်
လည်း၊သူတို့သည်အနက်ကိုမဖော်မပြနိုင်ကြ။–
၁၆ သင်သည် အနက်များကို ဖော်ပြ၍ ပုစ္ဆာ အမေး
တို့ကို ဖြေနိုင် သည် ဟု၊ ငါ ကြား ပြီး သည် အ
တိုင်း၊ ထိုစာကိုဖတ်၍ အနက်ကို ငါ့အား ဖော်ပြ
နိုင်လျှင်၊ အဝတ်နီကိုဝတ်ဆင်၍လည်ပင်း၌ရွှေ
စလွယ် ဆွဲလျက်၊ နိုင်ငံတော်တွင် တတိယ မင်း
ဖြစ်ရလိမ့်မည်ဟုမိန့်တော်မူ၏။
၁၇ ဒံယေလကလည်း၊ဆုတော်လပ်တော်ကိုကိုယ်
တော်၌ရှိစေတော်မူပါ။ ပေးလိုသော အရာများ
ကိုအခြားသူအားပေးသနားတော်မူပါ။သို့သော်
လည်း၊ ရှေ့တော်၌ ထိုစာကို ဖတ်၍ အနက်ကို
၁၈ ဖော်ပြပါမည်။–အရှင်မင်းကြီး၊အမြင့်ဆုံးသော
ဘုရားသခင် သည် ခမည်း တော် နေဗုခဒ်နေဇာ

မင်းကြီး၌ နိုင်ငံတော်နှင့်တကွ ဘုန်းတော်
ခြိတ်၊ ဂုဏ်အသရေတော်ကို ပေးသနားတော်မူ
၁၉ ၏။- ပေးသနားတော်မူသော ထိုဘုန်းတော်
ခြိတ်ကြောင့်၊ အရပ်ရပ်တို့၌နေ၍ အသီးသီး အ
ခြားခြားသော ဘာသာစကားကို ပြောသောလူ
မျိုးတကာတို့သည် ရှေ့တော်၌ ကြောက်ရွံ့ တုန်
လှုပ်လျက် နေကြ၏၊ သတ်လိုသော သူတို့ ကို
သတ်တော်မူ၏၊ အသက်ရှင်စေလိုသော သူတို့
ကိုရှင်စေတော်မူ၏၊ ချီးမြှောက်လိုသောသူတို့ကို
ချီးမြှောက်တော်မူ၏၊ နှိမ့်ချလိုသောသူတို့ကို နှိမ့်
၂၀ ချတော်မူ၏၊- မာန်မာနစိတ်နှင့်ထောင်လွှားစော်
ကားခြင်းရှိသော အခါ၊ ဘုန်းတန်ခိုး ကွယ်
၂၁ ပျောက်၍ နန်းဘော်မှကျ၏၊- လူသားစုထဲက
နှင်ထုတ်ခြင်းကိုခံ၍ တိရစ္ဆာန်သဘောနှင့်ပြည့်
စုံ၏၊ အမြင့်ဆုံးသောဘုရားသခင်သည်လောကီ
နိုင်ငံကိုအုပ်စိုး၍၊ အလိုတော်ရှိသောသူတို့အား
အပ်တော်မူသည်ကိုမသိမမှတ်မှီတိုင်အောင်၊မြည်
မြင်းတို့နှင့်ပေါင်းဖော်လျက်၊ နွားကဲ့သို့မြက်ကို
စားလျက်၊မိုဃ်းစွတ်ခြင်းကိုခံ၍နေရ၏၊
၂၂ အရှင်သားတော်ဗေလရှာဇာ၊ ကိုယ်တော်
သည် ထိုအမှုအလုံးစုံတို့ကို သိတော်သည်၊၊
၂၃ စိတ်နှစ်လုံးကိုမနှိမ့်ချဘဲ၊- ကောင်းကင်ဘုံ၏အ
ရှင်ကို ဆန့်ကျင်ထက်ပြု၍၊ ဗိမာန်တော်၏
ဖလားတို့ကိုရှေ့တော်သို့ယူခဲ့စေ၍၊ ကိုယ်တော်
တိုင်မှစသောမှူးတော်မတ်တော်၊မိဖုရား၊မောင်း
မမိဿံတို့သည် ထိုဖလားတို့နှင့် စပျစ်ရည်ကို
သောက်ကြပြီတကား၊မျက်စိမမြင်၊နားမကြား၊
အဘယ်အရာကိုမျှ မသိသော ငွေဘုရား၊ ရွှေ
ဘုရား၊ ကြေးဝါဘုရား၊ သံဘုရား၊ သစ်သား
ဘုရား၊ ကျောက်ဘုရားတို့ကို ချီးမွမ်း၍၊ ကိုယ်
တော်၏ အသက်သခင်တည်းဟူသော ကိုယ်
တော်၏အမှုအလုံးစုံတို့ကိုစီရင်ပိုင်တော်မူသော
ဘုရားသခင်ကို မချီးမွမ်းဘဲ နေပါပြီတကား။-
၂၄ ထိုကြောင့်၊လက်ဖျားကိုစေလွှတ်၍ ထိုစာကိုရေး
၂၅ စေတော်မူ၏၊- စာချက်ဟူမူကား၊ မေနေမေနေ၊
တေကလ၊ ဖေရက်ဟူ အက္ခရာတင်လျက် ရှိ၏။-
၂၆ မေနေ၏ အနက်အဓိပ္ပာယ်ကား၊ ကိုယ်တော်၏
နိုင်ငံကို ဘုရားသခင် ရေတွက်၍ ဆုံးစေတော်မူ
၂၇ ၏၊- တေကလ၏ အနက် အဓိပ္ပာယ်ကား၊ ကိုယ်
တော်ကိုချိန်ခွင်နှင့် ချိန်၍ လျော့ကြောင်းကိုတွေ့
၂၈ မြင်တော်မူ၏၊-ဖေရက်၏အနက်အဓိပ္ပာယ်ကား၊
နိုင်ငံတော်ကိုခွဲဝေ၍မေဒိလူ၊ပေရသိလူတို့အား
အပ်ပေးတော်မူ၏ ဟုဆိုသတည်း။ ထိုအခါ ဒံယေ
လသည် အဝတ်တော်၌ မြန်ကြား လျှော့သော
၂၉ ၏။- ထိုအခါ ဗေလရှာဇာ မင်းကြီး မိန့်တော်မူ
သည်အတိုင်း၊ ဒံယေလကိုအဝတ်နီဝတ်ဆင်စေ
၍ လည်ပင်း၌ရွှေစလွယ်ဆွဲပြီးမှ၊ နိုင်ငံတော်တွင်
တတိယမင်းဖြစ်သည်ဟု မြို့ကို ထည့်၍ ထပ်
ကြော်ကြ၏။
၃၀ ထိုညဉ့်၌ပင် ခါလဒဲရှင်ဘုရင် ဗေလရှာဇာ
၃၁ မင်းသည် အသက်ဆုံး၍- မေဒိအမျိုး ဒါရိမင်း
သည် အသက် ခြောက်ဆယ်နှစ်နှစ်တွင် နိုင်ငံ
တော်ကိုသိမ်းယူတော်မူ၏။

၆

၁ ဒါရိမင်းကြီးသည် နိုင်ငံတော်အမှုအရေးအ
လုံးစုံတို့ကိုစီရင်ရသောမြို့ဝန်တရာနှစ်ဆယ်တို့
၂ ကိုငှင်၊-အကျိုးတော်ကိုမထုတ်မလျော့စေခြင်း
ငှါ၊ထိုမြို့ဝန်အပေါင်းတို့ကို အုပ်ချုပ်စစ်ကြောရ
သောဝန်ကြီးသုံးပါးကိုငှင်၊ အလိုတော် ရှိသည်
အတိုင်း ခန့်ထားတော်မူ၏၊ ထိုဝန်ကြီး သုံးပါး
တွင်ဒံယေလသည် ဝန်ကြီးအရာကို ရသည်သာ
၃ မက၊-ထူးဆန်းသောဉာဏ်နှင့်ပြည့်စုံ၍မြို့ဝန်
တကာ၊ ဝန်ကြီးတကာ ထို ထက် လွန် ကဲသော
ကြောင့်၊ နိုင်ငံတော်တနိုင်ငံလုံးကိုသူ၌ အပ်နှင်း
မည်ဟု၊ရှင်ဘုရင်သည်အကြံရှိတော်မူ၏။
၄ ထိုအခါဝန်ကြီးနှင့်မြို့ဝန်တို့သည် ဒံယေလ၌
အပြစ်တင်စွပ်ကို ရှာ၍၊ နိုင်ငံတော် အမှုအရေး
ရှားကိုစစ်ကြောကြ၏၊ ဒံယေလသည်သစ္စာနှင့်
ပြည့်စုံ၍ အပြစ်တစုံတခုမျှ မရှိသောကြောင့်၊
အပြစ်တင်စွပ်ကိုရှာ၍မတွေ့ကြသည်ရှိသော်၊-
၅ ဘုရားသခင်၏ တရားမှုမှတပါး အခြားသော
အမှုတွင် ဒံယေလ၌ အပြစ်တင်စွပ်ကို ငါတို့မ
၆ တွေ့နိုင်ကြဟု၊ ထိုင်ပင် ပြောဆိုပြီးမှ၊- အထံ
တော်သို့လာရောက်စည်းဝေးကြ၍၊ အရှင်မင်း
ကြီးဒါရိ၊ အသက်တော်အစဉ်အမြဲ ရှင်ပါစေ။-
၇ ကိုယ်တော်မြတ်မှတပါးအခြားသော လူကိုဖြစ်
စေ၊ ဘုရားကိုဖြစ်စေ၊ အရက်သုံးဆယ်အတွင်း
တွင် ဆုတောင်းသော သူမည်သည်ကို ခြင်္သေ့
လှောင်သောတွင်းထဲသို့ချပစ်ရမည်ဟု၊မရွေ့သော
ခြင်းနှင့်သော အမိန့်တော်မြတ်ကို ထုတ်စေခြင်း
ငှါနိုင်ငံတော်ဝန်ကြီး၊ မြို့ဝန်၊စော်ဘွား၊ တိုင်ပင်
ဖူးမတ်၊ စစ်ကဲအပေါင်းတို့သည် အညီအညွတ်
၈ တိုင်ပင်ကြပါပြီ၊- ထိုဖြစ်၍၊အရှင်မင်းကြီး အ
မိန့်ရှိတော်မူပါ၊ မပြောင်းလဲ တတ်သော မေဒိ

ပေရသိဓမ္မသတ်အတိုင်း အမိန့်တော် တည် စေ
ခြင်းငှါ၊ တံဆိပ်ခတ်တော်မူပါဟုလျှောက်ထား
၉ ကြလျှင်၊- ဒါရိမင်းကြီးသည်အမိန့်တော်ကိုပေး
၍တံဆိပ်ခတ်တော်မူ၏။
၁၀ အမိန့်တော်ထုတ်၍ တံဆိပ်ခတ် ကြောင်းကို
ဒံယေလသည်ကြားသိသော်လည်း၊ မိမိအိမ်သို့
သွား၍ယေရုရှလင်မြို့သို့မျက်နှာပြုရာအထက်
ခန်းပြတင်းပေါက်ပွင့်လျက်ပင်၊ အထက်ပြုလေ့
ရှိသည်အတိုင်း၊ တနေ့သုံးကြိမ်ဒူးထောက်လျက်
ဘုရားသခင်ကို ဆုတောင်း၍ ဂုဏ် ကျေးဇူး
၁၁ တော်ကိုချီးမွမ်းလေ၏။- ထိုသို့ဘုရားသခင်ကို
ဆုတောင်းပဌနာပြုလျက်နေသည်ကို မှူးမတ်အ
၁၂ ရာရှိတို့သည်စည်းဝေး၍တွေ့မြင်ကြလျှင်၊- အ
ထံတော်သို့ဝင်၍၊ အရှင် မင်းကြီး၊ ကိုယ်တော်
မြတ်မှတပါးအခြားသောလူကိုဖြစ်စေ၊ ဘုရားကို
ဖြစ်စေ၊ အရက်သုံးဆယ်အတွင်းတွင်ဆုတောင်း
သောသူမည်သည်ကို ခြင်္သေ့လှောင်သောတွင်း
ထဲသို့ ချပြစ်စေဟု အမိန့် တော်ကို တံဆိပ် ခတ်
တော်မူလျက်ရှိပါသည်မဟုတ်လောဟု၊ အမိန့်
တော် အကြောင်းကို မေး လျှောက် ကြ ၏။ ရှင်
ဘုရင်ကလည်း၊ မပြောင်းလဲတတ်သောမေဒိ၊ ပေ
ရသိဓမ္မသတ်အတိုင်း မှန်ပေသည်ဟု မိန့်တော်
၁၃ မူ၏။- မှူးမတ်အရာရှိတို့ကလည်း၊ အရှင်မင်းကြီး၊
ယုဒပြည်ကသိမ်းယူခဲ့သောယုဒလူမျိုးဒံယေလ
သည်အာဏာတော်ကိုပမာဏမပြု၊ တံဆိပ်ခတ်
တော်မူသော အမိန့်တော်ကိုဆန့်ကျင်လျက်၊ တ
နေ့သုံးကြိမ်တိုင်အောင်ဆုတောင်း၍နေပါသည်
၁၄ ဟု လျှောက် ထား ကြ၏။- ထို စကား ကို ကြား
လျှင်၊ ရှင်ဘုရင်သည် အလွန်နှောင်တရ၍ဒံယေ
လကိုလွှတ်ခြင်းငှါ စိတ်အားကြီးသဖြင့်၊ လွှတ်
ရသော အခွင့်ကို နေဝင် သည် တိုင်အောင် ကြိုး
စား၍ရှာတော်မူ၏။
၁၅ တဖန် မှူးမတ် အရာရှိတို့သည် အထံတော်သို့
စည်းဝေး၍၊ အရှင်မင်းကြီး၊ တခါထုတ်ပြီးသော
အမိန့်တော်မပျက်နိုင်ရာဟု၊ မေဒိ၊ ပေရသိ ဓမ္မ
သတ်၌ ပါကြောင်းကို သတိထားတော်မူပါ ဟု
၁၆ လျှောက် ကြ ပြန် လျှင်၊- တ ဖန် ရှင် ဘုရင် မိန့်
တော်မူသည်အတိုင်း၊ ဒံယေလကိုခေါ်၍ခြင်္သေ့
တွင်းထဲသို့ချပြစ်ကြ၏။ ရှင်ဘုရင်ကလည်း၊ သင်
မပြတ်ကိုးကွယ်သောဘုရားသခင်သည်သင့်ကို
ကယ်လွှတ်ပါစေဟုဒံယေလကို မိန့်တော်မူ၏။-
၁၇ ကျောက်ပြားကို လည်း ယူခဲ့၍ တွင်းဝကို ပိတ်
ပြီးလျှင်၊ ဒံယေလ အမှု၌ စီရင် ချက်ကို မထိုး မ
လျော့စေခြင်းငှါ၊ ရှင်ဘုရင် တံဆိပ်နှင့် မှူးမတ်
တို့တံဆိပ်ကိုခတ်တော်မူ၏။
၁၈ ထိုနောက်၊ ရှင်ဘုရင်သည်နန်းတော်သို့ပြန်၍
တညဉ့်လုံးစားတော်မခေါ်၊ အပြော်တန်ဆာကို
အထံတော်သို့ မသွင်းစေဘဲ စက်တော်ခေါ်၍ မ
၁၉ ပျော်နိုင်။- နံနက်စောစောထ၍ ခြင်္သေ့တွင်းသို့
၂၀ အလျင်အမြန် သွားတော်မူ၏။- ရောက်လျှင်၊ ပို
ကြူးသောအသံနှင့်ဒံယေလကိုခေါ်၍၊ အသက်
ရှင်တော်မူသော ဘုရားသခင်၏ ကျွန် ဒံယေလ၊
သင် မပြတ် ကိုးကွယ်သော ဘုရားသခင် သည်
သင့်ကို ခြင်္သေ့ဘေးမှ ကယ်လွှတ် နိုင်သလော
၂၁ ဟုမေးတော်မူ၏။- ဒံယေလက၊ အရှင်မင်းကြီး၊
၂၂ အသက်တော်အစဉ်အမြဲရှင်ပါစေ။- အကျွန်ုပ်
၏ဘုရားသခင် သည် ကောင်းကင်တမန်ကို စေ
လွှတ်၍ခြင်္သေ့နှုတ်ကိုပိတ်ထားတော်မူသဖြင့်၊
အကျွန်ုပ်သည် ခြင်္သေ့ ဘေးနှင့် လွတ်ပါ၏။ အ
ကြောင်းမူကား၊ ဘုရား သခင် ရှေ့၌ အကျွန်ုပ်
သည် အပြစ် ကင်း ပါ ၏။ ကိုယ် တော် မြတ် ရှေ့
သည်း အလျှင်းမပြစ်မှားပါဟုပြန်လျှောက်လေ
၂၃ ၏။- ထိုအခါရှင်ဘုရင်သည်အလွန်ဝမ်းမြောက်
၍၊ ဒံယေလကို တွင်းထဲကထုတ်ယူစေဟု အမိန့်
တော် ရှိသည်အတိုင်း ဒံယေလ ကို တွင်းထဲက
ထုတ် ယူ ၍၊ ဘုရား သခင် ကို ယုံကြည် သော
ကြောင့်သူ၌ထိခိုက်သောအနာတစုံမျှမရှိ။
၂၄ ထိုနောက်၊ ဒံယေလ၌ အပြစ်တင်သော သူတို့
ကို ရှင်ဘုရင်၏ အမိန့် တော်နှင့် ခေါ်၍၊ သားမ
ယားနှင့်တကွခြင်္သေ့တွင်းထဲသို့ချပြစ်ကြလျှင်၊
မြေသို့မရောက်မှီခြင်္သေ့တို့သည် နိုင်၍သူတို့အ
ရိုးရှိသမျှတို့ကိုချိုးဖဲ့ကြ၏။
၂၅ ထိုအခါမြေကြီးတပြင်လုံးတွင်အရပ်ရပ်တို့၌
နေ၍၊ အသီးသီးအခြားခြားသောဘာသာစကား
ကို ပြော သော လူ မျိုး တကာတို့ ရှိရာ သို့ အမိန့်
တော်စာနှင့် စေလွှတ် တော်မူ၏။ စာ ချက် ဟူမူ
ကား၊ သင်တို့၌ ငြိမ်ဝပ်ချမ်းသာ ခြင်းများပြား
၂၆ စေသော။- ငါ၏အစိုးရသောတနိုင်ငံလုံးတွင်ရှိနေ
သော သင်တို့သည် ဒံယေလ၏ ဘုရားသခင် ကို
ကြောက်ရွံ့ရိုသေကြကုန်ဟုငါအမိန့်တော်ရှိ၏။
အကြောင်းမူကား၊ ထိုဘုရားသခင်သည်အသက်
ရှင်တော်မူသောဘုရား၊ နိစ္စထာဝရ တည်တော်
မူသောဘုရား ဖြစ်တော် မူ၏။ နိုင်ငံ တော် သည်
ပျက်စီးခြင်းသို့မရောက် နိုင်။ အာဏာစက်တော်

၂၇ ထည်း အစဉ်အဆက် တည် လိမ့်မည်။- မစ
ကယ်တင်ခြင်းကျေးဇူးကို ပြုတော်မူ၏။ကောင်း
ကင် မြေကြီး၌ နိမိတ်ထူး၌ကော၊ အံ့ဩဘွယ်
ထူးကိုဖြစ်စေတော်မူ၏။ဒံယေလကိုခြင်္သေ့ထက်
မှကယ်လွှတ်တော်မူသော ဘုရားသခင်သည် ထို
သို့သောဘုရားဖြစ်တော်မူ၏ဟုအမိန့်တော်ရှိ၏။
၂၈ ထိုသို့ဒံယေလသည် ဒါရိမင်းကြီးထက်ထက်
၌၎င်း၊ ပေရသိအမျိုးကုရုမင်းကြီး ထက်ထက်၌
၎င်းကောင်းစားလျက်နေ၏။

၇

၁ ဗာဗုလုန် ရှင်ဘုရင်ဗေလရှာဇာ နန်းစံ ပဌမ
နှစ်တွင်၊ ဒံယေလသည် အိပ်မက်ကို မြင်၍အိပ်
ပျော်စဉ်၊ စိတ်ထဲ၌အာရုံပြုပြီးမှ မြင်မက်သော
၂ အရာတို့ကို ရေးထား သော အချက် ကား၊- ငါ
ဒံယေလ သည် ညည့် အခါ အာရုံ ပြု ၍၊ မိုဃ်း
ကောင်းကင် လေးမျက်နှာ၌ လေတို့သည် မဟာ
သမုဒ္ဒရာ ပေါ်မှာ အ ချင်း ချင်း တိုက် ကြလျှင်၊-
၃ သဏ္ဌာန်ချင်းမတူသောသားရဲ လေးကောင်တို့
သည်သမုဒ္ဒရာထဲကထွက်လာကြ၏။ပဌမသား
ရဲသည် ခြင်္သေ့နှင့်တူ၏။ ရွှေလင်းတ အတောင်
၄ လည်းရှိ၏။- ငါကြည့်ရှု၍နေစဉ်၊သူ၏အတောင်
ကို နှုတ်ကြ၏။ မြေမှကိုယ်ကို ချီကြွလျက် လူကဲ့
သို့ ခြေဖြင့်မတ်တတ်ရပ်၍၊ လူစိတ် သဘောကို
၅ ထည်းရ၏။ဒုတိယသားရဲသည်ဝံနှင့်တူ၏။- တ
ဖက်၌ ကိုယ်ကို ကိုယ် ချီကြွ၏။ ပစပ်၌ နံရိုးသုံး
ချောင်းကိုကိုက်လျက်ရှိ၏။သင်ထလော့။အသား
များကို ကိုက်စားလော့ဟု သူ့အား ပြောကြ၏။-
၆ တဖန် ငါကြည့်ရှုပြန်၍၊ ကျားသစ်နှင့် တူသော
သားရဲတကောင်သည်ထင်ရှား၏။ကြောပေါ်မှာ
ငှက်အတောင် လေးခုရှိ၏။ ခေါင်းလေးသုံး နှင့်
ပြည့်စုံ၏။အုပ်စိုးရသောအခွင့်လည်းရှိ၏။
၇ ထိုညည့်အခါ၊ တဖန် ငါသည် အာရုံပြုစဉ်၊
ကြီး စွာ သော ခွန် အား နှင့် ပြည့် စုံ၍ အ လွန်
ကြောက် မက်ဘွယ်သော စတုတ္ထ သား ရဲ သည်
ထင်ရှား၏။ ကြီးစွာသော သံသွားလည်း ရှိ၏။
ကိုက်စား ချိုးဖဲ့၍ ကြွင်း သော အရာကို ခြေဖြင့်
နင်းခြေ၏။သူသည်အရင်သားရဲ ရှိသမျှတို့ထက်
၈ ထူးခြား၏။ဦးချိုဆယ်ချောင်းလည်းရှိ၏။-ထိုဦးချို
ကိုငါကြည့်ရှုစဉ်၊ ဦးချိုများအလယ်၌ ဦးငယ်တ
ချောင်းသည် ပေါက်ပြန်၏။ ထိုဦးငယ်ရှေ့မှာ အ
ရင်ဦးချိုသုံးချောင်းကို အမြစ်နှင့်တကွ နှုတ်လေ၏။
ထိုဦးငယ်သည် လူမျက်စိကဲ့သို့သော မျက်စိနှင့်
၎င်း၊ကြီးစွာသောစကားကိုပြောတတ်သောနှုတ်
နှင့်၎င်းပြည့်စုံ၏။
၉ ထိုအခါ ငါကြည့်ရှုစဉ်၊ ရာဇပလ္လင်များကို
တည်ထားလျက်ရှိ၍၊ အသက်ကြီးသော သူတ
ဦး သည် ထိုင် တော် မူ ၏။ အ ဝတ် တော် သည်
မိုဃ်းပွင့်ကဲ့သို့ဖြူ၏။ ဆံပင်တော်သည် ဖြူသော
သိုးမွေးနှင့်တူ၏။ပလ္လင်တော်သည်မီးလျှံဖြစ်၏။
ပလ္လင်တော်အောက်၌ မီးစက် လှည်းဘီးရှိ၏။-
၁၀ မျက်နှာ တော်မှ မီးချောင်းခြည် ထွက်လေ၏။ အ
ထိုင်းမသိ များ စွာသော သူတို့ သည် အမှုတော်
ကိုဆောင်ရွက်၍၊ ကုဋေသန်းမကရှေ့တော်၌ခ
စား၍နေကြ၏။တရားစီရင်ခြင်း၌ပါပွင်ဆင်၍စာ
၁၁ စောင်များကို ဖွင့်ထားကြ၏။- ထိုအခါ ဦးငယ်
ပြောသောစကားကြီးအသံကြောင့်ငါကြည့်ရှု၍
နေစဉ်၊ ထိုသားရဲအသက်ကို သတ်ပြီးလျှင်သူ
၁၂ ၏ကိုယ်ကိုမီးရှို့၍ဖျက်ဆီးကြ၏။- အခြားသော
သားရဲ မူကား၊ အစိုးရသော အခွင့် တန်ခိုးရှုံး
သော်လည်း၊ ချိန်းချက်သော ကာလပတ်လုံး အ
၁၃ သက်ရှင်ရကြ၏။- ထိုညည့်အခါငါသည်အာရုံ
ပြု၍၊ လူသားနှင့် တူသော သူတဦးသည် မိုဃ်း
တိမ်ကိုစီးလျက်၊ အသက်ကြီးသောသူ၏ အထံ
တော်သို့ရောက်လာ၏။ ထိုသူကိုအထံတော် ပါး
၁၄ သို့သွင်းကြ၏။- အရပ်ရပ်တို့၌ နေ၍ အသီးသီး၊
အခြားခြားသော ဘာသာစကားကို ပြောသော
လူမျိုး တကာ တို့ကို အုပ် စိုး စေခြင်း ငှါ၊ ထိုသူ
သည်နိုင်ငံနှင့်တကွအာဏာစက်တန်ခိုးကိုရ၏။
အာဏာစက် တော်သည် ကမ္ဘာ အဆက် ဆက်
တည် ၏။ နိုင်ငံ တော် သည် ပျက် စီး ခြင်း သို့ မ
ရောက် နိုင်ရာ။
၁၅ ငါဒံယေလသည် ကိုယ်ခန္ဓာတုန်လှုပ်၍၊ ထို
၁၆ ရူပါရုံကြောင့် စိတ်ပူပန် ခြင်းရှိလျှင်၊- အနားနား၌
ရပ်နေ သော သူတယောက် ထံသို့ သွား၍၊ ထိုရ
မြင်သမျှကား၊အဘယ်သို့ဆိုသနည်းဟုမေးမြန်း
၁၇ သော်၊-ထိုသူက၊ဤသားရဲလေးကောင်တို့သည်
မြေကြီး ပေါ်မှာ ပေါ်ထတ့ံ သော နိုင်ငံ လေးပါး
၁၈ ဖြစ်၏။-သို့သော်လည်း၊ အမြင့်ဆုံးသောဘုရား
၏သန့်ရှင်းသူတို့သည် နိုင်ငံကိုသိမ်းယူ၍ ကမ္ဘာ
အ ဆက် ဆက် စံ စား ကြ ထတံ့ ဟု၊ အ နက် အ
ဓိပ္ပာယ်ကိုကြားပြော၏။
၁၉ ထိုအခါ အခြားသောသားရဲထက်ထူးခြား၍
အလွန်ကြောက်မက်ဘွယ်ဖြစ်လျက်၊သံသွားနှင့်
၎င်း၊ကြေးဝါထက်သည်းခြေသည်းနှင့်၎င်း ပြည့်

နှံ့သဖြင့်၊ကိုယ်စားရှိ၊ ဖဲ့၍ကြွင်းသမျှကိုခြေဖြင့်
နင်းခြေတတ်သောစတုတ္ထသားရဲကား၊ အသေထိ
၂၀ သို့ဆိုလိုသည်ကိုငှင်၊- သူ၏ခေါင်း၌ရှိသောဦး
ဆယ်ချောင်းကား၊ အသေထိသို့ ဆိုလို သည်ကို
ငှင်၊နောက်ပေါက်၍အရင်ဦးသုံးချောင်းကိုနှုတ်
၍၊ကြီးစွာသောစကားကို ပြောတတ်သောနှုတ်
နှင့်မျက်စိရှိသဖြင့်၊ မိမိအပေါင်းတို့ထက်သာ၍ရဲ
ရင့်သော မျက်နှာအဆင်း ရှိသောဦး တ ချောင်း
ကား၊ အသေထိသို့ဆိုလိုသည်ကိုငှင်သိခြင်းငှါငါ
၂၁ အလိုရှိ၏။- ငါကြည့်ရှုစဉ်တွင် အသက်ကြီး
၂၂ သောသူသည်ရောက်လာလျှင်၊အမြင့်ဆုံးသော
ဘုရား၏သန့်ရှင်းသူတို့အား၊ စီရင်ရသောအခွင့်
ကိုပေး၍၊ထိုသူတို့သည်နိုင်ငံကိုသိမ်းယူဝင်စား
သော အချိန် ရောက်သည် တိုင်အောင်၊ ထိုဦး
သည်သန့်ရှင်းသူတို့ကိုစစ်တိုက်၍နိုင်လေ၏။
၂၃ ထိုသူကလည်း၊ စတုတ္ထသားရဲသည် မြေကြီး
ပေါ်မှာ အခြားသော နိုင်ငံ ရှိသမျှ တို့ထက် ထူး
ခြားသော စတုတ္ထနိုင်ငံဖြစ်၏။ ထိုနိုင်ငံသည် မြေ
ကြီးရှိသမျှကိုကိုက်စားမျိုး၊ဖဲ့နင်းခြေလိမ့်မည်။-
၂၄ ထိုနိုင်ငံ၌ ပေါက်သော ဦးဆယ် ချောင်း သည်
ပေါ်လာတဲ့ သောမင်းကြီး ဆယ်ပါးဖြစ်၏။ သူတို့
နောက် အခြားသောမင်းကြီး ပေါ်လာလိမ့်မည်။
အရင်မင်းကြီးထက်ထူးခြား၍သုံးပါးတို့ကိုနှိမ့်
၂၅ ချလိမ့်မည်။-အမြင့်ဆုံးသောဘုရားကို ဆန့်ကျင်
ဘက်ပြု၍၊ကြီးစွာသောစကားကိုပြောလိမ့်မည်။
အမြင့်ဆုံးသောဘုရား၏သန့်ရှင်းသူတို့ကိုညှဉ်း
ဆဲ နှိပ်စက်လိမ့်မည်။ ကာလအချိန်နှင့် ပညတ်
တရားတို့ကို ပြောင်းလဲစေခြင်းငှါ ကြံစည် လိမ့်
မည်။ တကာလ၊ နှစ်ကာလ၊ ကာလတဝက်ပတ်
၂၆ လုံး သူသည် အခွင့် ရလိမ့်မည်။- ထိုနောက် မှ
တရားစီရင်ခြင်းဖြစ်လိမ့်မည်။ထိုအခါသူ၏တန်
ခိုးအာဏာကို နှုတ်၍ ရှင်းရှင်းဖျက်ဆီးကြလိမ့်
၂၇ မည်။-ကောင်းကင်အောက်၌ နိုင်ငံနှင့်တကွအာ
ဏာစက်ဘုန်းတန်ခိုးရှိသမျှကို အမြင့်ဆုံးသော
ဘုရား၏သန့်ရှင်းသောအမျိုးသားတို့သည်ရကြ
လိမ့်မည်။ ထိုဘုရားသခင် ၏ နိုင်ငံတော် သည်
ထာဝရနိုင်ငံဖြစ်၏။ မင်းကြီး အပေါင်းတို့သည်
၂၈ ထိုးဝင်၍ကျွန်ခံရကြလိမ့်မည်။-ဤရွေ့ကား အ
နက်အဓိပ္ပာယ်ပေတည်းဟု ဆိုလေ၏။ ငါဒံယေ
လသည်စိတ်ပူပန်ခြင်းသို့ရောက်၍ မျက်နှာညှိုး
ငယ်ခြင်းရှိ၏။သို့သော်လည်း၊မြင်ရသောအာရုံ
များကိုစိတ်နှစ်လုံးထဲ၌သိုထား၏။

၈

၁ ဗေလရှာဇာ မင်းကြီး နန်းစံ သုံးနှစ်တွင်၊ ငါ
ဒံယေလထံသို့ထင်ရှားဗိတ်တော်ကိုမြင်ပြီးသည့်
နောက်၊ တဖန်ရူပါရုံကို မြင်ရသောအ
ကြောင်းအရာ တူမူကား၊- ဧလံပြည်၊ ရှုရှန်မြို့
တော်၌ဥလဲမြစ်နားမှာငါရှိစဉ်၊ ရူပါရုံထင်ရှား
၍၊- ငါမျှော်ကြည့်သော၊ရှည်လျားသောဦးနှစ်
ချောင်းရှိသော သိုးတကောင်သည် မြစ်တဘက်၌
ရပ်နေ၏။ထိုဦးနှစ်ချောင်းသည်မညီ၊ တချောင်း
ထက်၍ရှည်၏၊ သာ၍ရှည်သောဦးသည် နောက်
၄ ပေါက် သ တည်း။- ထို သိုး သည် အ နောက်၊
တောင်၊ မြောက်၊ သုံးမျက်နှာသို့ တိုးခွေ့ဝှေ့
ကြောင့် အဘယ် တိရိစ္ဆာန်မျှ မခံနိုင်၊ အသေထိ
လူမျှ သူ့ထက်မှ မကယ်မလွှတ်နိုင်သည် ဖြစ်၍၊
မိမိအလိုရှိသည်အတိုင်းပြုသဖြင့် ကြီးမားခြင်း
သို့ရောက်လေ၏။
၅ ထိုအမှုကိုငါဆင်ခြင်လျက်နေသောအခါ၊မျက်
စိနှစ်လုံး ကြား၌ ထူးဆန်းသော ဦးတချောင်းရှိ
သောဆိတ်တကောင်သည်အနောက်မျက်နှာက
လာ၍၊ မြေကိုမနင်းဘဲ မြေ ကြီး တ ပြင် လုံး ကို
၆ ကျော်လေ၏။-ဦးနှစ်ချောင်းနှင့်မြစ်တဘက်၌ထင်
ရှားသောသိုးရှိရာသို့ ပြင်းစွာ သော အဟုန် နှင့်
၇ ပြေး၍၊-အနားသို့ရောက်သောအခါ၊ပြင်းစွာအ
မျက်ထွက်သဖြင့် သိုးကိုခတ်၍သိုး၏ဦးနှစ်ချောင်း
ကိုချိုးဖဲ့၏။ သိုးသည်ခံနိုင်သောတန်ခိုးမရှိသဖြင့်
ဖြစ်၍၊ ဆိတ်သည်သူကိုမြေ၌ လှည်း၍နင်းလေ
၏။ သူ့လက်မှ အ ဘယ် သူမျှ သိုးကို မကယ်မ
၈ လွှတ်နိုင်။-သို့ဖြစ်၍ ထိုဆိတ်သည် အလွန်ကြီး
မားခြင်းသို့ရောက်လေ၏။ ခွန်အားကြီးသောအ
ခါ ဦးကြီးကျိုးပဲ့၏၊ ထိုဦးအရာ၌ ထူးဆန်းသော
ဦးလေးချောင်းပေါက်၍၊မိုဃ်းကောင်းကင်လေး
၉ မျက်နှာသို့မျက်နှာပြုကြ၏။- ထိုဦးလေးချောင်း
တွင် တချောင်း၊ထဲက အ ခြား သော ဦး တက် ဟ
ချောင်းပေါက်ပြန်၍၊တောင် မျက်နှာ သို့၎င်း၊ အ
ရှေ့ မျက်နှာသို့၎င်း၊ သာယာသော ပြည်သို့၎င်း
မျက်နှာပြု၍၊ အလွန် ကြီးမား ခြင်း သို့ ရောက်
၁၀ လေ၏။- ကောင်းကင်ဗိုလ်ခြေတိုင်အောင် ကြီး
မား၍၊ထိုဗိုလ်ခြေအမှုတို့နှင့်ကြယ်အမှုတို့ကို
၁၁ မြေသို့ချ၍နင်းလေ၏။- ထိုမျှမက၊ဗိုလ်ခြေသခင်
တိုင်အောင် ထောင် လွှား ခြင်း ကို ပြုလျက်၊ နေ့
ရက်အစဉ်ပြုသောဝတ်ကိုပယ်၍၊သန့်ရှင်းရာ
၁၂ ဌာနတော်ကို နှုတ်ပစ်လေ၏။- အပြစ်ရှားသော



 

ကြောင့် နေ့ ရက် အစဉ် ပြု သော ဝတ်နှင့်တကွ
ဗိုလ်ခြေကိုလည်း ထိုမြို့လည်းရ၍၊ သမ္မာတရား
ကို မြေသို့နှိမ့်ချ၏။ ထိုသို့ပြု၍အောင်မြင်ခြင်းသို့
ရောက်လေ၏။
၁၃ ထိုအခါသန့်ရှင်းသူတပါး၏စကားပြောသံကို
ငါကြား၏။ သန့်ရှင်းသူတပါးက၊ ယခင် ပြော
သောသူကိုထံ၍၊ သန့်ရှင်းရာဌာနနှင့် ဗိုလ်ခြေ
ကိုနင်းခြင်း၊ အထို၌ နေ့ရက်အစဉ်ပြုသောဝတ်
ကိုပယ်ခြင်း နှင့်၎င်း၊ ဖျက်ဆီး တတ် သော လွန်
ကျူးခြင်း၊ နှင့်၎င်း စပ်ဆိုင် သော ဗျာဒိတ် ရူပါရုံ
သည်အဘယ်မျှကာလပတ်လုံးတည်လိမ့်မည်
၁၄ နည်းဟုမေးမြန်းလျှင်၊- ယခင်ပြောသောသူက၊
ရက်ပေါင်းနှစ်ထောင်သုံးရာတိုင်တိုင်တည်လိမ့်
မည်။ ထိုနောက်၊ သန့်ရှင်းရာဌာနကို တဖန်ဆေး
ကြောသုတ်သင်ကြလိမ့်မည်ဟု ပြန်၍ပြောဆို၏။
၁၅ ငါဒံယေလသည်ထိုရူပါရုံကိုမြင်၍အနက်ကို
ရှာဖွေသောအခါ၊ လူသဏ္ဌာန်ရှိသောသူတဦး
၁၆ သည်ငါ့ရှေ့တွင်ရပ်နေ၏။- အခြားသောသူက၊ ဂါ
ဗြေလ၊ ထိုသူသည် ယခုမြင်သော ဗျာဒိတ်ရူ
ပါရုံကို နားလည်စေခြင်းငှါ အနက်ကို ပြန်ပြော
လော့ဟု၊ ဥလဲမြစ်နားကြားမှာ လူအသံနှင့်ထင်
၁၇ ၍ ပြောဆိုသည်ကို ငါကြား၏။- ထိုသူသည် ငါ
ရပ်နေရာအပါးသို့လာလျှင်၊ ငါသည်ကြောက်လန့်
၍ပြပ်ဝပ်လျက်နေ၏။ ထိုသူက၊ အချင်းလူသား
နားလည် လော့။ ဤ ဗျာဒိတ် ရူပါရုံ သည် အမှု
ကုန်ရသောကာလနှင့်ဆိုင်သည်ဟုငါ့အားပြော
၁၈ ဆို၏။- ထိုသို့ဆိုသောအခါ ငါသည်မြေပေါ်မှာ
ပြပ် ဝပ်၍ မိန်းမော တွေဝေလျက် နေ၏။ ထိုသူ
သည်ငါ့ကိုလက်နှင့်ထိ၍ ယခင်နေရာ၌မတ်တတ်
၁၉ နေစေပြီးလျှင်၊- ဒေါသအမျက်တော်အဆုံး၌ဖြစ်
လတံ့သောအရာကို ငါကြားပြောဦးမည်။ ချိန်း
ချက်သောအချိန်၌လက်စသတ်လိမ့်မည်။
၂၀ ဦးချို နှစ်ချောင်း နှင့် ပေါ်ထသော သိုး သည်
၂၁ မေဒိရှင်ဘုရင်၊ ပေရသိရှင်ဘုရင်ဖြစ်၏။- အမွေး
ကြမ်းသောဆိတ်သည် ယေထသ ရှင်ဘုရင်ဖြစ်
၏။ မျက်စိ နှစ်လုံး ကြား၌ ရှိသော ဦးချိုကြီးသည်
၂၂ ပဌမမင်းဖြစ်၏။- ထိုဦးချိုကျိုးပဲ့၍၊ သူ့အရာ၌ ဦးချို
လေးချောင်းပေါက်သည်မှာ၊ အရင်နိုင်ငံတွင် နိုင်ငံ
လေးပါး တည်ထောင် လိမ့်မည်။ အရင်နိုင်ငံ၏
၂၃ တန်ခိုးနှင့်မပြည့်စုံကြ။- ထိုနိုင်ငံတို့၏အဆုံးဖြစ်
သော ကာလ ၌ လွန်ကျူး သော သူတို့၏ အပြစ်
ပြည့်သော အခါ၊ ရဲရင့် သော မျက်နှာ ရှိ၍
ပရိယာယ်တို့ကို နားလည်သော မင်းကြီး ထပေါ်
၂၄ ပေါ်လာလိမ့်မည်။- ထိုမင်းကြီးသည် ကိုယ်တန်
ခိုးမရှိဘဲလျက် တန်ခိုးကြီးလိမ့်မည်။ အထူးသ
ဖြင့် ဖျက်ဆီး၍ ထိုး ထွား အောင်မြင် လိမ့်မည်။
ခွန်အားကြီးသောသူနှင့် သန့်ရှင်းသောသူတို့ကို
၂၅ ပယ်ဖျက်ဆီးလိမ့်မည်။- သူသည်လိမ္မာပါးနပ်သ
ဖြင့်၊ မုသာသည် အောင်မြင် လိမ့်မည်။ စိတ်
ထောင်လွှား ခြင်း နှင့်တကွ မိဿဟာယဖွဲ့သော
အားဖြင့် လူများ တို့ကို ဖျက်ဆီး၍၊ သခင် တို့၏
သခင်ကို ဆန့်ကျင် ဘက် ပြုလိမ့်မည်။ သို့သော်
လည်း၊ လူလက်ဖြင့် လက်မခတ်ဘဲကျိုးပဲ့ပျက်
၂၆ စီးခြင်းသို့ရောက်လိမ့်မည်။- ညဦးနှင့် နံနက်ကို
ဖော်ပြသော ဗျာဒိတ်ရူပါရုံ စကားမှန်သည်ဖြစ်
၍၊ ထိုစကားကိုတံဆိပ်ခတ်ထားလော့။ တာရှည်
သောကာလတိုင်တိုင်တည်လိမ့်မည်ဟု ဆို၏။
၂၇ ထိုအခါ ငါဒံယေလသည်မော၍နာလျက်နေ
၏။ တဖန်အနာမှ ထမြောက်၍ ရှင်ဘုရင်၏အမှု
တော်ကို ဆောင်ရွက် ၏။ မြင်ပြီးသော ဗျာဒိတ်
ရူပါရုံကိုငါအံ့ဩသော်လည်း၊ ထိုအမှုကိုအ
ဘယ်သူမျှမရိပ်မိကြ။

## ၉

၁ ယေရုရှလင်မြို့ ပျက် စီး၍ အ နှစ် ခုနှစ် ဆယ်
၂ လွန်စေမည်ဟု၊ ထာဝရဘုရား၏ ဗျာဒိတ် တော်
ကို ပရောဖက်ယေရမိခံသည်ဖြစ်၍၊ ခါလဲ
နိုင်ငံကို အမိုးရသောမေဒိအမျိုး၊ အာရွှေရုသား
ဒါရိနန်းစံပဌမနှစ်တွင်၊ ငါဒံယေလသည်ထိုနှစ်
ပေါင်း အရေအတွက်ကို ကျမ်းစာအားဖြင့် သိရ
၃ သောကြောင့်၊- အစာကိုရှောင်လျက်၊ လျှော်တေ
အဝတ်ကိုဝတ်လျက်၊ ပြာနှင့်လူးလျက်၊ အရှင်
ဘုရားသခင်ထံတော်သို့ ချဉ်းကပ်၍ ဆုတောင်း
၄ ပဌနာပြု၏။- ထိုသို့အပြစ်ကိုဖော်ပြတောင်းပန်
၍ငါကိုးကွယ်သော ဘုရားသခင် ထာဝရဘုရား
ထံ ငါပြုသော ပဌနာဟူမူကား၊ ကိုယ်တော်ကို
ချစ်၍ ပညတ်တော်တို့ကို စောင့်သော သူတို့အား
သစ္စာတော် မပျက်၊ ကရုဏာ တရား ကို စောင့်
တော်မူသော၊ အလွန်ကြီးမြတ်၍ ကြောက်ရွံ့
၅ ဖွယ်ဖြစ်တော်မူသော အရှင်ဘုရားသခင်၊- အ
ကျွန်ုပ်တို့သည်ပြစ်မှားမိပါပြီ။ ဒုစရိုက်ကိုပြုမိပါ
ပြီ။ မတရားသဖြင့်ကျင့်မိပါပြီ။ ပုန်ကန်မိပါပြီ။
စီရင်ထုံးဖွဲ့ တော်မူသော တရား ထုံးမှ လွှဲမိပါ
၆ ပြီ။- အကျွန်ုပ်တို့၏ရှင်ဘုရင်၊ မင်းသား၊ အဘ
ကြီးသူမှစ၍ ပြည်သူပြည်သားအပေါင်းတို့အား

ကိုယ်တော်၏ အစေခံ ပရောဖက်တို့၏ ကိုယ်
တော်၏ကျွန်၊ ပရောဖက်တို့၏ စကားများကို အ
ကျွန်ုပ်တို့သည်နားမထောင်ဘဲနေကြပါပြီ။
၇ အိုဘုရားရှင်၊ ကိုယ်တော်သည် တရား နှင့်
ဆိုင်တော်မူ၏။ ကိုယ်တော်ကို ပြစ်မှားသော အ
ပြစ်ကြောင့် နှင်ထုတ်တော်မူ၍၊ နီးသော ပြည်၊
ဝေးသော ပြည်၊ အရပ်ရပ်တို့၌ နေရသော ယုဒ
ပြည်သူ၊ ယေရုရှလင်မြို့သား မှစ၍ ဣသရေလ
လူ အပေါင်းတည်း ဟူသော အကျွန်ုပ် တို့သည်
ယနေ့၌ရှိသည် အတိုင်း၊ မျက်နှာပျက်ခြင်းနှင့်
၈ ဆိုင်ကြပါ၏။-အိုဘုရားရှင်၊ ကိုယ်တော်ကိုပြစ်
မှားသောကြောင့်၊ အကျွန်ုပ်တို့၏ရှင်ဘုရင်၊ မင်း
သား၊ အဘကြီးသူ မှစ၍ အကျွန်ုပ်တို့ သည်
၉ မျက်နှာပျက်ခြင်းနှင့်ဆိုင်ကြပါ၏။-အကျွန်ုပ်တို့
သည် ကိုယ် တော်ကို ပုန်ကန် သော် လည်း၊ အ
ကျွန်ုပ်တို့အရှင်ဘုရားသခင်သည်ကရုဏာကိုပြ
ခြင်း၊ အပြစ်ကိုဖြေရှင်းခြင်း၊ အခွင့်နှင့်ဆိုင်တော်
၁၀ မူ၏။-အကျွန်ုပ်တို့၏ ဘုရားသခင်ထာဝရဘုရား
သည်ကျွန်တော်ရင်း၊ ပရောဖက်တို့ဖြင့်အကျွန်ုပ်
တို့၌ထားတော်မူသောပညတ်တရားတော်ထမ်း
သို့လိုက်ခြင်းငှါ၊ ဗျာဒိတ်တော်အသံကိုအကျွန်ုပ်
၁၁ တို့သည် နားမထောင်ဘဲနေကြပါပြီ။- အကယ်
စင်စစ်ဣသရေလအမျိုးသား အပေါင်းတို့သည်
ဗျာဒိတ်တော် အသံကို နားမထောင်၊ လွှဲသွား၍
ပညတ်တရားတော်ကိုလွန်ကျူးကြပါပြီ။ သို့ဖြစ်
၍၊ ကိုယ်တော်ကိုပြစ်မှားသော အပြစ်ကြောင့်၊
ကျိန် ဆို တော် မူ ခြင်း တည်း ဟူ သော၊ ဘုရား
သခင်၏ကျွန်မောရှေ၏ပညတ္တိကျမ်း၌မှတ်သား
သော အကျိန်ကို အကျွန်ုပ် တို့ အပေါ်သို့ သွန်း
၁၂ လောင်း တော် မူ၏။- အ ကျွန်ုပ်တို့ တဖက်၊ အ
ကျွန်ုပ်တို့ကို အုပ်သော တရားသူကြီးတို့ တဖက်
၌ မိန့်တော်မူသော စကားတော်ကို တည်စေ၍၊
အကျွန်ုပ်တို့အပေါ်မှာကြီးစွာသောဘေးဥပါဒ်
ကိုရောက်စေတော်မူပြီ။ အကြောင်းမူကား၊ ယေ
ရုရှလင်မြို့၌ ဘေး ရောက်သကဲ့သို့ ကောင်းကင်
အောက် တွင် အ တ ယ် အရပ် ၌ မျှ မရောက် စဖူး
၁၃ ပါ။-မောရှေ၏ပညတ္တိကျမ်းစာ၌မှတ်သားသည့်
အတိုင်း၊ ဤဘေးဥပါဒ်ရှိသမျှ သည်အကျွန်ုပ်တို့
အပေါ်မှာ ရောက် ပါပြီ။ အကျွန်ုပ် တို့သည် ဒုစ
ရိုက်များကို ရှောင်၍ သစ္စာတရားတော်ကို နား
လည်ခြင်းအလိုငှါ၊ အကျွန်ုပ်တို့ဘုရားသခင်ထာ
ဝရဘုရားထံတော်၌ မတောင်းပန်ဘဲနေကြပါပြီ
၁၄ ထသော။- ထိုကြောင့်၊ ထာဝရဘုရားသည် ဘေး
ဥပါဒ်ကိုစောင့်၍၊ အကျွန်ုပ်တို့အပေါ်သို့ရောက်
စေတော်မူပြီ။ အကျွန်ုပ်တို့၏ ဘုရား သခင် ထာ
ဝရဘုရားသည် ပြုတော်မူသမျှတို့၌ ဖြောင့်မတ်
တော်မူ၏။ အကျွန်ုပ်တို့သည်ဗျာဒိတ်တော်အသံ
ကိုနားမထောင်ဘဲနေကြပါပြီတကား။
၁၅ တန်ခိုးကြီးသော လက်တော်ဖြင့် ကိုယ်တော်
၏လူတို့ကို အဲဂုတ္တုပြည်မှနှုတ်ဆောင်၍၊ ယနေ့
၌ရှိသည်အတိုင်း၊ အသရေတော်ကို ထင်ရှားစေ
တော်မူသော အကျွန်ုပ်တို့၏အရှင် ဘုရားသခင်
အကျွန်ုပ် တို့သည် ပြစ်မှားမိပါပြီ။ မတရားသ
၁၆ ဖြင့်ပြုမိပါပြီ။-အိုဘုရားရှင်၊ ဖြောင့်မတ်တော်မူ
ခြင်း၊ တရားတော်ရှိသမျှ တို့နှင့်အညီ၊ သန့်ရှင်း
သောတောင် တော်တည်းဟူသော ကိုယ်တော်
၏ယေရုရှလင်မြို့မှ ပြင်းစွာသော ဒေါသ အမျက်
တော်ကိုလွှဲတော်မူပါဟု အကျွန်ုပ်တောင်းပန်ပါ
၏။ အကြောင်းမူကား၊ အကျွန်ုပ်တို့ အပြစ် များ
မှစ၍ ဘိုးဘေးတို့၏ အပြစ်များကြောင့်၊ ယေရု
ရှလင် မြို့နှင့် ကိုယ်တော် ၏ လူစု သည် ပတ်ဝန်း
ကျင်၌ ရှိသော သူတို့ တွင် ကဲ့ရဲ့စရာ အကြောင်း
၁၇ ဖြစ်ပါ၏။-ယခုမူကား၊ အကျွန်ုပ်တို့ဘုရားသခင်၊
ကိုယ်တော်၏ကျွန် ပြုသောပဌနာစကားကို နား
ထောင် တော်မူပါ။ ဆိတ်ညံ့ လျက်ရှိသော သန့်
ရှင်းရာဌာန တော်ကို ဘုရားရှင်၏ အကျိုးတော်
ကြောင့်၊ မျက်နှာတော်ရောင်ခြည်ကို ထွန်းထင်း
၁၈ စေတော်မူပါ။- အကျွန်ုပ် ၏ ဘုရား သခင်၊ နား
တော်ကို လှည့်၍ နားထောင်တော်မူပါ။ မျက်စိ
တော်ကိုဖွင့်၍ အကျွန်ုပ်တို့ပျက်စီးရာများကိုငှင်၊
နာမ တော် ဖြင့် သမုတ် သော မြို့ကိုငှင် ကြည့်ရှု
တော်မူပါ။ အကျွန်ုပ်တို့သည် ကိုယ်ကုသိုလ်ကို
အမှီမပြု၊ မဟာကရုဏာတော်ကို သာ အမှီပြု၍
၁၉ ပဌနာစကားကို ရှေ့တော်၌ဆက်ကပ်ပါ၏။- အို
ဘုရားရှင်၊ နားထောင်တော်မူပါ။ အိုဘုရားရှင်၊
အပြစ်ကို လွှတ် တော် မူပါ။ အို ဘုရားရှင်၊ နား
ထောင်၍ပြုတော်မူပါ။ အကျွန်ုပ်၏ဘုရားသခင်၊
ကိုယ်တော်အတွက်ဖင့်နွှဲတော်မမူပါနှင့်။ ကိုယ်
တော်၏မြို့၊ ကိုယ်တော်၏ လူစုသည် နာမ တော်
ဖြင့် သမုတ်ခြင်းရှိပါသည်ဟု ဆုတောင်းပဌနာ
ပြု၏။
၂၀ ထိုသို့ ဆုတောင်း ပဌနာပြု၍၊ ကိုယ်အပြစ်ကို
ငှင်၊ အမျိုးသားချင်း ဣသရေလလူတို့၏ အပြစ်ကို
ငှင်ဖော်ပြတောင်းပန်၍၊ ငါကိုကျွယ်သောဘုရား

ခင်၏ သန့်ရှင်းသော တောင်တော် အဖို့ ငါ၏
ဆုတောင်းပန်ရာအကြောင်းကို၊ ငါ၏ဘုရားသခင်ထာဝရ
၂၀ ဘုရား ရှေ့တော်၌ ဆက်ကပ်လျက် နေ၍၊- ဆု
တောင်းခြင်းအမှုပြု၍ နှုတ်ဆိုစဉ်တွင်၊ အ
စဉ်ဗျာဒိတ်ရူပါရုံ၌ ထင်ရှားသောသူ ဂါဗြေလ
သည် လျင်မြန်စွာ ပျံ၍ လာလျက်၊ ညဦးယဇ်ပူ
၂၁ ဇော်ချိန်၌ ငါ့ရှိရာသို့ ရောက်၍၊- နှုတ်ဆက်
လျက်၊ အချင်း ဒံယေလ၊ ငါသည် သင့်၌ ဉာဏ်
ပညာတိုးပွားစေမည့်အကြောင်း ထွက်လာပြီ။-
၂၃ သင်သည် ဆုတောင်းစပြုသောအခါ အမိန့်တော်
ရှိသည်ဖြစ်၍၊ သင့်အား ကြားပြောခြင်းငှါ ငါ
ရောက်လာပြီ၊ သင်သည် အလွန် ချစ်အပ်သော
သူဖြစ်၏၊ ထိုကြောင့်၊ ဗျာဒိတ်တော်အချက်ကို
ဆင်ခြင်၍ နားလည်ရသောအခွင့်ရှိ၏။
၂၄ လွန်ကျူးခြင်း အမှုကို ဆီးတား၍ အပြစ်ကို
ထိပ်ဆိပ်ခတ်စေခြင်းငှါ၎င်း၊ ဒုစရိုက်အပြစ်ကိုဖြေ
ရှင်း၍ ထာဝရ ကုသိုလ်ကို သွင်းစေခြင်းငှါ၎င်း၊
ဗျာဒိတ်ရူပါရုံနှင့် အနာဂတ္တိဗျာဒိတ်တော်တို့ကို
ထိပ်ဆိပ်ခတ်၍၊ အလွန်သန့်ရှင်းသောအရပ်ဌာ
နကို လိမ်းစေခြင်းငှါ၎င်း၊ သီတင်းခုနစ်ဆယ်ကို
သင်၏ အမျိုးသားချင်း အဖို့နှင့် သင်၏ သန့်ရှင်း
၂၅ သောမြို့အဖို့ ဆုံးဖြတ်ခြင်းရှိ၏။-ထိုကြောင့်၊ ယေ
ရုရှလင်မြို့ကို တဖန်တည်ဆောက်ပြုစုစေခြင်းငှါ
အမိန့်တော်ရှိသည့်နေ့မှစ၍ ခရစ်တော်သခင်၏
လက်ထက်တိုင်အောင်၊ ခုနစ်သီတင်းနှင့်ခြောက်
ဆယ် နှစ်သီတင်း ကြာလိမ့်မည်ဟု သိမှတ်နား
လည်လော့၊ အနှောင့်အရှက်ခံရသောကာလ၌
မြို့ရိုးကို တဖန် တည်ဆောက် ပြုစုရမည်ဟု စီ
၂၆ ရင်ဆုံးဖြတ်ခြင်းရှိ၏။- ထိုသီတင်းခြောက်ဆယ်
နှစ်သီတင်းလွန်ပြီးမှ၊ ခရစ်တော်သည် အခွင့်မ
ရဘဲအသေသတ်ခြင်းကိုခံရလိမ့်မည်၊ ထိုနောက်
မှ လာသောသခင်၏ လူတို့သည် မြို့တော်ကို၎င်း၊
သန့်ရှင်းရာဌာနကို၎င်း ဖြိုဖျက်ကြလိမ့်မည်၊ ရေ
လွှမ်းမိုးသော အားဖြင့် ဆုံးရှုံးခြင်း ဖြစ်လိမ့်
မည်၊ အဆုံးတိုင်အောင် စစ်တိုက်ခြင်း၊ ဖျက်ဆီး
ရာနှင့်ဆိုင်သော စီရင်ဆုံးဖြတ်ခြင်းရှိလိမ့်မည်။-
၂၇ တသီတင်းတွင် လူအများတို့နှင့် ပဋိညာဉ် ဖွဲ့
ခြင်းရှိ၍၊ ထိုသီတင်း တဝက်တွင် ယဇ်ပူဇော်
ခြင်းနှင့် ဆက်ကပ်ခြင်းကို ပျောက်စေလိမ့်မည်၊
ရွံရှာဘွယ်သော အရာ၏ အတောင်ပေါ်သို့ ဖျက်ဆီး
သောသူသည် ရောက်၍၊ စီရင် ဆုံးဖြတ်သော
ဆုံးတိုင်အောင် ပယ်ရှင်းခြင်းသည် ပျက်စီးစေသော

သူတို့ကို မလွှမ်းမိုးမှီတိုင်အောင် ထိုသို့ဖြစ်လိမ့်
မည်ဟု ကြားပြော၏။

၁၀

၁ ပေရသိရှင်ဘုရင်ကုရု နန်းစံသုံးနှစ်တွင်၊ ဗေ
လတေရှာဇာ အမည်ဖြင့် ခေါ်သော ဒံယေလ
သည် ဗျာဒိတ်တော်ကို ခံရ၏၊ ထို ဗျာဒိတ်တော်
စကားမှန်ပေ၏၊ ကြီးစွာသောစစ်တိုက်ခြင်းနှင့်
ဆိုင်ပေ၏၊ သူသည်ထိုစကားကိုနားလည်၏၊ မြင်
၂ ရသောရူပါရုံသဘောကိုလည်း ရိပ်မိ၏။-ထိုအခါ
ထဲ၌ ငါဒံယေလသည် အရက်နှစ်ဆယ်တရက်
၃ တိုင်တိုင် ငြိုးငြင်စွာကျင့်လျက်နေ၏၊- အရက်နှစ်
ဆယ်တရက်မစေ့မှီ မြိန်သောမုန့်ကို မစား၊ အမဲ
သားနှင့် စပျစ်ရည်ကိုမသောက်၊ ဆီလိမ်းခြင်းကို
၄ လည်း အလျှင်းမပြု။- ပဌမလ နှစ်ဆယ်လေး
ရက်နေ့၌ ငါသည် ဟိဒ္ဒေကလမြစ်ကြီး အနားမှာ
၅ ရှိစဉ်၊-မျှော်ကြည့်၍ပိတ်ချောနှင့်ဥဖတ်ရွှေစင်
ခါးပန်းကို ဝတ်ဆင်လျက်ရှိသော လူတဦးကို
၆ မြင်၏၊- သူ၏ ကိုယ်သည် ကျောက်ရှတ်ရွှဲကဲ့သို့
ဖြစ်၏၊ သူ့မျက်နှာသည်လည်း လျှပ်စစ်ကဲ့သို့
ထင်၏၊ သူ့မျက်စိသည်လည်း မီးရှူးကဲ့သို့ဖြစ်
၏၊ လက်ခြေတို့သည် ဦးသစ်သောကြေးဝါအ
ရောင်အဆင်းရှိ၏၊ သူ့စကားသံသည် များစွာ
၇ သောလူစုအသံနှင့်တူ၏၊- ထိုဗျာဒိတ်ရူပါရုံကို
ငါဒံယေလတယောက်တည်းမြင်ရ၏၊ ငါနှင့်အ
တူပါသောလူတို့သည်မမြင်ရကြ၊ သူတို့သည်အ
လွန်ကြောက်၍ တုန်လှုပ်ခြင်းသို့ရောက်သဖြင့်
၈ ပုန်းရှောင်၍ နေခြင်းငှါပြေးကြ၏၊- ငါမူကား
တယောက်တည်းနေရစ်၍ ထိုကြီးစွာသောရူပါ
ရုံကိုမြင်ရလျှင်၊ ခွန်အားလျော့၍ မျက်နှာရှုတ်
လျက်၊ ကိုယ်၌ အစွမ်းသတ္တိ အလျှင်းမရှိဖြစ်
၉ လေ၏၊- သို့ရာတွင်၊ ထိုသူ၏ စကားသံကို ငါ
ကြား၏၊ ကြားသောအခါ မြေပေါ်မှာ ပြပ်ဝပ်၍
၁၀ မိန်းမောတွေဝေလျက်နေ၏၊- ထိုအခါလက်တ
ဖက်သည် ငါ့ကိုကြွ၍၊ ငါသည် ဒူးနှင့်လက်ဝါး
၁၁ ဖြင့်ထောက်လျက်နေရ၏၊-သူကလည်း၊ အလွန်
ချစ်အပ်သောသူ၊ ဒံယေလ၊ ငါ့စကားကိုနားထောင်
ခံ၍ မတ်တတ်နေလော့၊ သင်ရှိရာသို့ ငါ့
ကို စေလွှတ်တော်မူ၍ ယခုငါလာပြီဟုဆိုလျှင်၊
ငါသည်တုန်လှုပ်လျက်မတ်တတ်နေ၏။
၁၂ ထိုအခါ သူကလည်း၊ အချင်း ဒံယေလ၊ စ
ကြောက်နှင့်၊ သင်သည်နားလည်ခြင်းငှါ၎င်း၊ သင်
၏ဘုရားရှေ့မှာ ကိုယ်ကို ကိုယ်ဆုံးမခြင်းငှါ၎င်း၊

မိတ်ဖြစ်သွားနှင့်သော ပဉ္စမရေ့မှာ၌ သင်၏စကား
ကို ကြား၍ လာ၍ ရေ၍ ထိုစကားကြောင့် လည်း
၁၃ ငါရောက်လာပြီ။–ပေရသိနိုင်ငံကိုအစိုးရသော
မင်းမူကား၊ အရက်နှစ်ဆယ် တရက် ပတ်လုံး
ငါကိုဆီးတား၏။ နောက်တခါ အမြတ်ဆုံးသော
မင်းစုထဲက မိက္ခေလသည် ငါကို အကူလာ၍၊ ငါ
သည်လည်း ထိုအရပ်၌ ပေရသိ ဓင်းကြီးတို့ထံ
၁၄ မှာဆိုင်းလင့်၍နေရ၏။–ထိုမှုကား၊ နောင်ကာ
လတွင် သင်၏ အမျိုးသားချင်းတို့၌ ဖြစ်လတံ့
သော အမှုအရာတို့ကို သင်သည် နားလည်စေ
ခြင်းငှါငါရောက်လာပြီ။ ဤရှာပါတ်ရူပါရုံသည်
ကာရှည်သော ကာလနှင့် ဆိုင်ပေ၏ဟု အစား
၁၅ ပြောဆို၏။– ထိုသို့ပြောဆိုပြီးမှ၊ ငါသည်ဦး
၁၆ ညွတ်ပြပ်ဝပ်၍ စကားမပြောနိုင်ဘဲနေ၏။– ထို
အခါလူသား၏သဏ္ဍာန်ရှိသော သူတဦးသည်ငါ
နှုတ်ကိုထိ နှင့်ဖို့လျှင်၊ ငါသည်နှုတ်ကိုဖွင့်၍
ပြောရသောအခွင့်ကိုရပြီးလျှင်၊ အကျွန်ုပ်၏သ
ခင်၊ ရူပါတ်ရူပါရုံကြောင့် အကျွန်ုပ်သည်ပြင်း
စွာသော ဝေဒနာကို ခံရ၍၊ ကိုယ်၌ ခွန်အားအ
၁၇ လျှင်းမရှိပါ။–ကိုယ်တော်ကျွန်သည်ကိုယ်တော်
အရှင်နှင့်အဘယ်သို့စကားပြောနိုင်ပါအံ့နည်း။
ယခုပင် အကျွန်ုပ်ကိုယ်၌ ခွန်အား အလျှင်းမရှိ
ပါ။ အကျွန်ုပ်အသက်လည်းကုန်ပါပြီဟု၊ ရှေ့
၁၈ မှာရပ်နေသောသူအား ငါလျှောက်၏။– နောက်
တဖန် လူသဏ္ဍာန် ရှိသောသူသည် လာ၍ ငါကို
၁၉ ထိ နှင့်ဖို့လျှက်အားပေးပြီးလျှင်၊–အလွန်ချစ်
အပ်သောသူ၊မကြောက်နှင့်။ငြိမ်သက်ခြင်းရှိပါ
စေ။ အားရှိလော့။ ခွန်အားနှင့်ပြည့်စုံလော့ဟုဆို
၏။ ထိုသို့ဆိုပြီးမှ ခွန်အားကိုငါရ၍၊ အကျွန်ုပ်၏
သခင်၊ မိန့်တော်မူပါ။ အကျွန်ုပ်ကို ခွန်အားပေး
၂၀ တော်မူပြီဟုလျှောက်၏။–ထိုသူကလည်း၊ငါသည်
သင်ရှိရာသို့လာရသောအကြောင်းကို နားလည်
သလော။ပေရသိမင်းကိုစစ်တိုက်အံ့သောငှါယခု
ငါပြန်သွားရမည်။ ငါသွားပြီးသည်နောက်၊ တ
၂၁ ဓန်ယေလသမင်းသည်ပေါ်လာလိမ့်မည်။–သို့ရာ
တွင်၊ သစ္စာကျမ်းစာ၌မှတ်သားသော အမှုအရာ
တို့ ငါပြဦးမည်။ ဤအမှုတို့တွင် သင်တို့၏ မင်း
မိက္ခေလမှတပါးငါထက်မှာနေသောသူမရှိ။

၁၁

၁ ငါသည်လည်း၊ မေဒိအမျိုးဒါရိမင်းကြီးနန်း
စံပဌမနှစ်တွင်၊ သူကိုနိုးဆော်၍ ခိုင်ခံ့မြဲမြံစေ
ခြင်းငှါကြံစည်အားထုတ်လေ၏။

၂ ယခုမှာကား၊ မှန်သောအရာကို ငါပြမည်။ ပေ
ရသိနိုင်ငံကိုအစိုးရသောရှင်ဘုရင်သုံးပါးပေါ်
ထွန်းမည်။စတုတ္ထရှင်ဘုရင်မူကား၊ ထိုသူတို့ထ
က်ဆို့ထက်ငွေရတတ်လိမ့်မည်။ ထိုသို့ရတတ်၍
အားကြီးသောကြောင့်၊ ယေဝန်ုနိုင်ငံကို ရန်
ထောင်ပြုစေခြင်းငှါ၊ ခပ်သိမ်းသော သူတို့ကို နိုး
၃ ဆော်လိမ့်မည်။– ထိုအခါတန်ခိုးကြီးသော ရှင်
ဘုရင်တပါးတည်း ပေါ်ထလိမ့်မည်။ အာဏာ
တော်ကြီးလျှက် အစိုးရ၍ မိမိအလိုရှိသည် အ
၄ တိုင်းပြုလိမ့်မည်။–ထိုသူသည်ပေါ်လာပြီးမှနိုင်
ငံတော်ကျိုးပဲ့၍၊သုတပါးတို့သည်မိုဃ်းကောင်း
ကင်လေးမျက်နှာတို့၌ ခွဲဝေကြလိမ့်မည်။ သို့ရာ
တွင်၊ အစိုးရသော သူတို့သည် အမျိုးအနွယ်
တော်မဟုတ်၊အာဏာတော်နှင့်အစိုးမရ၊ နိုင်ငံ
တော်ကိုနှုတ်ပြစ်၍အမျိုးအနွယ်တော်မှတပါး
အခြားသောသူတို့သည်ရကြလိမ့်မည်။
၅ ထိုအခါ တောင်ရှင်ဘုရင်သည် တန်ခိုးကြီး
လိမ့်မည်။မင်းစုထဲ၌မင်းတပါးသည်ထိုသူထက်
တန်ခိုးကြီး၍အာဏာတည်လိမ့်မည်။ထိုသူ၏အာ
၆ ဏာသည်းအလွန်ကျယ်လိမ့်မည်။–ကာလလွန်
သောအခါ သူတို့သည် အချွေ့ဖွဲ့ကြလိမ့်မည်။
အထင်အတင်ဖြစ်စေခြင်းငှါ တောင်ရှင်ဘုရင်၏
သမီးသည် မြောက်ရှင်ဘုရင်ထံသို့ ရောက်လိမ့်
မည်။ သို့သော်လည်း၊ ထိုမင်းသမီး၏အာဏာတည်
မတည်ရ။ ထိုမင်းနှင့်တကွ အမျိုးအနွယ်တော်
သည်လည်းမတည်ရ။ မင်းသမီးကိုငှင်း၊ ဆောင်ခဲ့
သောသူတို့ကိုငှင်း၊ သူ၏သားကိုငှင်း၊ ထိုကာလ၌
သူကိုထောက်မသောသူများကိုငှင်းဆုံးရှုံးခြင်း
၇ သို့အပ်ရလိမ့်မည်။–ထိုမင်းသမီး၏ အဆွေအမျိုး
ဖြစ်သော သူတယောက်သည် အဓိ၏ အရိပ်အ
ရာကိုရသဖြင့်စစ်ရှိ၍လာလိမ့်မည်။မြောက်ရှင်
ဘုရင်၏ မြို့တော်သို့ရောက်လျှင်၊ မြို့သားတို့ကို
၈ တိုက်၍နိုင်လိမ့်မည်။–သူတို့၏ဘုရားများ၊သွန်း
သော ရုပ်တုများ၊ အထိုးထိုက်သော ငွေဖလား၊
ရွှေဖလားများကို အဲဂုတ္တုပြည်သို့ သိမ်းသွား
လိမ့်မည်။သူသည်လည်း၊မြောက်ရှင်ဘုရင်ထက်
၉ အသက်ရှည်လိမ့်မည်။–တဖန်မြောက်ရှင်ဘုရင်
သည်တောင်ရှင်ဘုရင်၏နိုင်ငံသို့ဝင်သော်လည်း၊
မိမိပြည်သို့ပြန်သွားရလိမ့်မည်။
၁၀ သားတော် တို့သည် ထကြွ၍ များစွာသော
အလုံးအရင်းကို စုဝေးကြလိမ့်မည်။ သားအ
ယောက်လည်း၊ ထတ်ဆတ်လာ၍ လွှမ်းမိုးလျှမ်း

နှင်း ထိမ့် မည်။ ထစ်နီ ဖြစ်ချ ထောလျှ ကွမျ မြို့ ထိုင်
၁၁ ဖောင် ထုပ်ကြ ထိမ့် မည်။- တောင် ရှင် ဘုရင်
သည်အမျက်ထွက်သဖြင့်၊ မြောက်ရှင်ဘုရင်ကို
ဆီး ကြ၍ တိုက် ထိမ့် မည်။ မြောက် ရှင်ဘုရင်
သည် များစွာသောစစ်သည် မိုက်ခြေအ လုံး အ
ရင်းတို့ကို စီရင်သော်လည်း၊ တောင် ရှင်ဘုရင်
သည်ထိုအလုံးအရင်းတို့ကိုသိမ်းထုလိမ့်မည်။-
၁၂ ထိုအလုံးအရင်းတို့ကို ပယ်ရှင်းပြီးမှ၊ မာန စိတ်
ပေါက်လျက်၊ အထောင်အသောင်းမက များစွာ
သောလူတို့ကိုလုပ်ကြံသော်လည်း၊ မိမိခွန်အား
၁၃ ကိုမတည်စေရ။-အကြောင်းမူကား၊ မြောက်ရှင်
ဘုရင် သည် တစ်ဖန်ပေါ်လာ၍၊ အရင်ထက်များ
စွာသော အလုံးအရင်းတို့ကို စီရင်ပြီးမှ ကာလ
အတန်အရာလွန်လျှင်၊ စစ်အင်္ဂါများ၊ စည်းစိမ်
၁၄ များနှင့်တကွ ထက်လာလိမ့်မည်။- ထိုကာလ၌
တောင်ရှင်ဘုရင်ကို ရန်ထောင်ပြုသောသူတို့သည်
များကြ လိမ့် မည်။ သင် ၏ အမျိုး သားချင်းဖြစ်
သော လုလုန်တို့သည် ဗျာဒိတ် ရူပါရုံ ကို ပြည့်စုံ
စေခြင်းငှါထ၍၊ ပျက်စီးခြင်းသို့ ရောက်ကြလိမ့်
၁၅ မည်။- မြောက်ရှင် ဘုရင်သည် လာ၍ မြို့ရိုးကို
တည်ပြီးလျှင်၊ ခိုင်ခံ့သော မြို့တို့ကို လုပ်ကြံလိမ့်
မည်။ တောင် ရှင်ဘုရင်၏ ထက်နတ်များ၊ ရွေး
ချယ်သော လူများတို့သည် ဆီးတားခြင်းငှါ ခွန်
၁၆ အားမရှိသောကြောင့် မဆီးတားရကြ။- တိုက်
လာသောသူသည်မိမိအလိုအလျောက်ပြု၍၊သူ
ရှေ့မှာအထယ်သူမျှ မရပ်မနေနိုင်ဘဲ၊ သာယာ
သော ပြည်ကို နင်း ပြီးမှ ဖုံလင် စေ လိမ့် မည်။-
၁၇ ဖြောင့်မတ်သောသူတို့သည်လိုက်လျက်၊ထိုမင်း
သည် မိမိနိုင်ငံ ၏ အလုံးအရင်း ရှိသမျှတို့နှင့်တ
ကွဝင်စားခြင်းငှါ ကြိုးစားအားထုတ်၍၊မိန်းမငယ်
အားဖြင့် ဖျက်ဆီးခြင်းငှါ ပေးစားလိမ့်မည်။ သို့
သော်လည်း၊သူသည်အကြံမမြောက်၊အကျိုးမ
၁၈ ရှိရ။-တစ်ဖန်ကျွန်းစုသို့မျက်နှာလှည့်၍ ကျွန်းအ
များတို့ကိုလုပ်ကြံလိမ့်မည်၊သို့ရာတွင်၊မိုလ်မင်း
တပါးသည် မိမိခံရသောအသရေ ဖျက်ခြင်းကို
မိမိမှတွဲပယ်၍၊ ထိုအသရေ ဖျက်ခြင်းကို တိုက်
လာသောမင်းအပေါ်သို့ပြန်ရောက်စေလိမ့်မည်။-
၁၉ ထို မင်း သည်လည်း၊ မိမိနေရာ မြို့တော်သို့ ပြန်
သွား ပြီး လျှင်၊ ထိမိ၍ လဲ လ ဖြင့် ကွယ် ပျောက်
ထိမ့်မည်။
၂၀ ထိုမင်းအရာ၌ လည်းနိုင်ငံတော်၏ ဘုန်းစည်း
စိမ်ကို ရှုတ်ချလျက်၊ ငွေတော် ခွဲသော လု သည်
ပေါ်လာ၍ခဏရှိပြီးမှ၊ ဒေါသအမျက်မထွက်၊
စစ်မတိုက်ဘဲ ဆုံးရှုံးခြင်းသို့ ရောက်လိမ့်မည်။-
၂၁ ထို သူအရာ၌ လည်း မင်း စည်း စိမ် ကို ခံ ထိုက်
သောသူမဟုတ်၊ ယုတ်မာသောသူ ပေါ်လာလိမ့်
မည်၊သူသည်အနိုင်အထက်မပြု၊ ချော့မော့ခြင်း
၂၂ အားဖြင့် နိုင်ငံကို ရလိမ့်မည်။- ထွမ်းမိုး သော
ထက်နက်တို့သည် သူ့ရှေ့မှာဖြစ်၍ ဆုံးရှုံးလိမ့်
မည်။မိတ်ဖွဲ့ထားသောမင်းလည်းဆုံးရှုံးလိမ့်
၂၃ မည်။- အကြောင်းမူကား၊ မိတ်ဖွဲ့ထားပြုသော
မင်းသည်သစ္စာဖျက်သဖြင့်၊ တက်လာ၍ လူအ
နည်းငယ်မျှ ပါသော်လည်း တန် ခိုး ကြီး လိမ့်
၂၄ မည်။- အသီးအနှံ များသောပြည်ကို အနိုင်အ
ထက်မပြုဘဲ ဝင်လိမ့် မည်။ လု ယူ သော ပစ္စည်း
ဥစ္စာစည်းစိမ်များကို ခွန်ကြဲ၍၊ မိမိဘိုးဘေးမပြု
ဘူးသောအမှုကိုပြုလိမ့်မည်။ခိုင်ခံ့သောမြို့ပြတို့
၂၅ ကိုရခြင်းငှါတာရှည်စွာကြံစည်လိမ့်မည်။-ကြီး
စွာသောအလုံးအရင်းနှင့်တကွတောင်ရှင်ဘုရင်
ကို ဆန့်ကျင်ထောင်ပြု၍၊ မိမိအစွမ်းသတ္တိကို နှိုး
ဆော်လိမ့်မည်။ တောင် ရှင်ဘုရင် သည်လည်း
အားကြီး၍များစွာသောအလုံးအရင်းနှင့်တကွ
စစ်တိုက်ခြင်းငှါ နှိုးဆော်သော်လည်း မခံမရပ်
နိုင်။ အကြောင်းမူကား၊ သူတစ်တော်၌ မကောင်း
၂၆ သောအကြံကိုကြံ စဉ်ကြလိမ့်မည်။-ထိုလူကျွေး
မွေးခြင်းကိုခံရသောသူတို့သည်လည်း၊ထိုသူ၏
အကျိုးကို ဖျက်ဆီး သော အားဖြင့်၊ သူ၏ထပ်
မြုပ်၍၊စစ်သူရဲ များတို့သည်အသက်ဆုံးကြလိမ့်
၂၇ မည်။- ထို ရှင်ဘုရင်နှစ်ပါးတို့သည် မကောင်း
သော အကြံကိုကြံ၍၊ တ စုသောစားပွဲ၌ ရုသ
စကားကိုပြောကြလိမ့်မည်။ သို့သော်လည်းအ
ကြံမမြောက်ရ။ ချိန်းချက်သော အချိန်ကာလ၌
၂၈ အဆုံးဖြစ်ရလိမ့်မည်။- ထစ်ဖန်မြောက်ရှင်ဘုရင်
သည် များစွာသော စည်းစိမ် ဥစ္စာပါလျက် မိမိ
ပြည်သို့ ပြန်၍ သွား စဉ်တွင်၊ သန့်ရှင်းသော
ပဋိညာဉ်တရားကို မနာလိုသောစိတ်ရှိသည် အ
တိုင်း ပြု ပြီးမှ မိမိ ပြည်သို့ ပြန် သွား ထိမ့်မည်။-
၂၉ ချိန်းချက်သော အချိန်၌ လည်း တောင်မျက်နှာ
သို့တစ်ဖန်ပြန်လာဦးမည်။ သို့သော်လည်း၊အရင်
ဖြစ်သကဲ့သို့မဟုတ်၊ နောက်ဖြစ်သကဲ့သို့လည်း
၃၀ မဟုတ်။- အကြောင်းမူကား၊ ကိတ္တိမ်သင်္ဘောတို့
သည် ထိုသူကိုဆီးတားကြလိမ့်မည်။ထိုကြောင့်၊
စိတ်နာလျက်ပြန်သွား၍သန့်ရှင်းသောပဋိညာဉ်
တရားကို အမျက် ထွက် သည် အတိုင်း ပြုပြီးမှ

ပြန်သွားစဉ်တွင်၊ သန့်ရှင်းသောပဋိညဉ်တရား
ကိုစွန့်ပြစ်သောသူတို့နှင့်အဆွေဖွဲ့လိမ့်မည်။
၃၁ ထိုမင်းနောက်မှ စစ်လက်နက် တို့သည်ပေါ်
ထသဖြင့်၊ တန်ခိုးကြီးသော သန့်ရှင်းရာ ဌာန
တော်ကို ညစ်ညူးစေ၍၊ နေ့ရက်အစဉ်ပြုသော
ဝတ်ကို ပယ် ရှင်းကြ လိမ့်မည်။ ဖျက်ဆီး တတ်
သော ရွံရှာ ဖွယ် အရာကိုလည်း တည်ထားကြ
၃၂ လိမ့်မည်။- ပဋိညဉ်တရားကိုပြစ်မှားသောသူ
တို့သည်ချော့မော့ရာသို့လိုက်၍ ယိုယွင်းကြလိမ့်
မည်။ မိမိ တို့ ဘုရား သခင် ကို သိ သော သူတို့မူ
ကား၊ ကြီးစွာသော အား နှင့် ပြုကြလိမ့်မည်။-
၃၃ လူစုထဲမှာပညာရှိသောသူတို့သည်အများသော
သူတို့ကို သွန် သင် ကြ လိမ့်မည်။ ထားနှင့်ကွပ်
မျက်ခြင်း၊ မီးရှို့ခြင်း၊ သိမ်းသွားချုပ်ထားခြင်း၊
လုယက်ခြင်းအားဖြင့် အချိန် ကာလ ပတ်လုံး
၃၄ လဲကြလိမ့်မည်။-လဲကြသောအခါအနည်းငယ်
သော မစခြင်းကို တဖန်ခံရကြလိမ့်မည်။ လူအ
များတို့သည်ချော့မော့ရာသို့လိုက်၍ဆည်းကပ်ကြ
၃၅ လိမ့်မည်။- အဆုံးရသည် ကာလတိုင်အောင်၊
ပညာ ရှိသော သူ အချို့ တို့ သည်လည်း စုံစမ်း
ခြင်းကိုခံ၍၊ သန့်ရှင်းဖြူစင်ရမည်အကြောင်းလဲ
ကြလိမ့်မည်။ထိုအမှုသည် ချိန်းချက်သောကာလ
တိုင်အောင်ဖြစ်ရသတည်း။
၃၆ ရှင်ဘုရင်တပါးသည်မိမိအလိုအလျောက်ပြု
၍၊ ဘုရားအပေါင်းတို့ထက် ကိုယ်ကို ကိုယ်ချီး
ပင့်မြှောက်စားလျက်၊ ဘုရားတို့၏ဘုရားကိုဆန့်
ကျင်ဘက်ပြု၍အံ့ဖွယ်သောစကားကိုပြောလိမ့်
မည်။ ဒေါသ အမျက် စေ့စုံ သည် ကာလ တိုင်
အောင်ကောင်းစားလိမ့်မည်။ စီရင်ဆုံးဖြတ်သ
၃၇ မျှအတိုင်း ဖြစ်ရလိမ့် မည်။- ထို မင်းသည် ဘိုး
ဘေးတို့ကိုးကွယ်သော ဘုရားကိုငှင်၊ မိန်းမတို့တပ်
မက်သော အလိုကိုငှင်၊ တပါးသောဘုရားများ
ကိုငှင်ပမာဏမပြု။ သူတကာတို့ထက် ကိုယ်ကို
၃၈ ကိုယ် ချီးမြှောက် လိမ့်မည်။- ထိုဘုရား အရာ၌
ခဲတိုက်တို့၏ ဘုရားနှင့်၊ ဘိုးဘေး တို့ မသိသော
ဘုရားကို ချီးမြှောက်၍၊ ရွှေ၊ ငွေ၊ ကျောက်မြတ်၊
နှစ်သက်ဖွယ်သောတန်ဆာများကို ပူဇော်လိမ့်
၃၉ မည်။- ခိုင်ခံ့သော ခဲတိုက်များကိုငှင်၊ မိမိဝန်ခံ
သောတပါးအမျိုးသားဘုရားကိုငှင်ပြုစု၍၊ဂုဏ်
အသရေ တိုး ပွား စေ လိမ့်မည်။ လူ များ တို့ အ
ပေါ်မှာအုပ်စိုးရသော အခွင့်ကိုပေး၍၊ စီးပွား
ဖြစ်ခြင်းအလို့ငှါမြေကိုဝေဖန်လိမ့်မည်။

၄၀ အမှု ကုန်ရသည် ကာလ၌ တောင် ရှင် ဘုရင်
သည် ထို မင်းကို တိုက် လိမ့်မည်။ မြောက် ရှင်
ဘုရင်သည်လည်းရထားများ၊မြင်းစီးသူရဲများ၊
သင်္ဘောများတို့ နှင့် တကွ လေဆွေကဲ့သို့ တိုက်
ထလျက်၊ထိုပြည်တို့ကိုဝင်၍ချင်းနင်းသွမ်းမိုး
၄၁ လိမ့်မည်၊-သာယာသောပြည်ကိုလည်းဝင်၍အ
များသောသူတို့သည်ဆုံးရှုံးကြလိမ့်မည်။သို့ရာ
တွင်၊ သူ၏လက်မှ လွတ်သော သူဟူမူကား၊ ဧဒုံ
ပြည်သား၊ မောဘပြည်သား၊အမ္မုန်အမျိုးသား
၄၂ အကြီးတို့သည် လွတ်ကြလိမ့်မည်။-ထိုမင်းသည်
အပြည်ပြည်တို့ကိုအောင်မြင်ရလိမ့်မည်။ အဲဂုတ္တု
၄၃ ပြည်လည်း မလွတ်ရ။- ထိုပြည်မှာရှိသော ရွှေ
ဘဏ္ဍာ၊ငွေဘဏ္ဍာ၊အဘိုးထိုက်သောဥစ္စာများ
ကို အပိုင်ရလိမ့်မည်။ လိဗျပြည်သားနှင့် ကုရှ
ပြည်သားတို့သည် သူနောက်သို့လိုက်ရကြလိမ့်
၄၄ မည်။- သို့ ရာ တွင်၊ သူ သည် အရှေ့ မျက် နှာ၊
မြောက်မျက်နှာအရပ်မှသိတင်းကိုကြား၍စိတ်
ပူပန်သဖြင့်၊ လူအများတို့ကိုဖျက်ဆီးသုတ်သင်
ပယ်ရှင်း ခြင်းငှါ၊ ကြီးစွာ သော ဒေါသ အမျက်
၄၅ နှင့်ထွက်သွားလိမ့်မည်၊-ပင်လယ်ကြားမှာဘုန်း
ကြီး၍သန့်ရှင်းသောတောင်ပေါ်၌စံရာတဲတော်
ကိုတည်ဆောက်ပြီးလျှင်၊အဘယ်သူမျှမစခြင်း
ငှါမတတ်နိုင်၍ဆုံးရှုံးခြင်းသို့ရောက်လိမ့်မည်။

၁၂

၁ ထိုကာလ၌ သင့်အမျိုးသားချင်းတို့၏ အမှုကို
စောင့်သော အရှင်ကြီး မိက္ခေလသည် ပေါ်ထ
လိမ့်မည်။ လူမျိုးတစုံတမျိုးမျှဖြစ်သည်ကာလမှစ
၍ ထိုကာလ တိုင်အောင်၊ မဖြစ်စဖူးသောဆင်း
ရဲဒုက္ခကပ်ကာလသည်ရောက်လိမ့်မည်။ ထိုကာ
လအခါ စာစောင်၌စာရင်းဝင်သမျှသောသင်၏
အမျိုး သားချင်း တို့သည် ကယ်လွှတ် ခြင်း သို့
၂ ရောက်ကြလိမ့်မည်။- ထိုကာလအခါ မြေမှုန့်၌
အိပ်ပျော်သောသူများတို့သည် နိုးကြလိမ့်မည်။
အချို့တို့ကား၊ ထာဝရ အသက်ရှင်ခြင်းနှင့်ငှင်၊
အချို့တို့ကား၊ ရှက်ကြောက်ခြင်း၊ထာဝရအသ
၃ ရေ ပျက်ခြင်းနှင့်ငှင် နိုးကြလိမ့်မည်။- ပညာ ရှိ
သော သူတို့သည် လည်း၊ ကောင်းကင် မျက်နှာ
ကြက်၏ အရောင်အဝါ ကဲ့သို့ငှင်၊ လူ အများတို့
ကိုဖြောင့်မတ်ခြင်းတရားလမ်းထဲသို့သွင်းသော
သူတို့သည်လည်း၊ ကြယ်များကဲ့သို့ငှင် အစဉ်
၄ အမြဲ ထွန်းလင်း ကြလိမ့်မည်။- သင်ဒံယေလမူ
ကား၊ အမှု ကုန်ရသည်ကာလ တိုင်အောင်၊ ဤ

ကာလ၊ တော် ထိုကို မိတ်၍ စာစောင် ကို တံဆိပ် ခတ်ထားလော့၊ အများသောသူတို့သည်ထိုစာ ကိုကြည့်ရှုသောအားဖြင့် ပညာ တိုးပွား၊ လိမ့် မည်ဟုပြော ဆို၏။
၅ ထိုအခါ ဒံယေလ သည် ကြည့် ရှုလျှင်၊ အ ခြားသော သူ နှစ်ပါး ထိုသည် မြစ်ကမ်းတို့၌ တ
၆ ဝတ်တပါးစီ ရပ်နေကြ၏။- တပါးကလည်း၊ ထုံ ထူးသော ဤအမှုအရာ တို့သည် မကုန်စင်မှီ အ ဘယ်မျှ လောက် ကြာ လိမ့် မည် နည်း ဟု၊ မိတ် ချောကို ဝတ်လျက်၊ မြစ်ရေပေါ်မှာရှိသောသူကို
၇ မေးမြန်း၏။-မိတ်ချောကိုဝတ်လျက်၊မြစ်ရေပေါ် မှာရှိသော သူကလည်း၊ တကာလ၊ နှစ် ကာလ၊ ကာလတဝက်ပတ်လုံး ဖြစ်လိမ့်မည်၊ သန့်ရှင်း သူတို့၏ အစွမ်းသတ္တိကို အရပ်ရပ်သို့ ဖြန့်ဘွင့် ခြင်းအမှုပြီးသောအခါ၊ ထိုအမှုအရာ အလုံးစုံ တို့သည် ကုန်စင်ကြလိမ့်မည်ဟု၊ လက်နှစ်ဘက် ကိုကောင်းကင်သို့မြှောက်၊ ကမ္ဘာအဆက်ဆက် အသက် ရှင်တော်မူသော ဘုရားကိုတိုင်တည်၍ ကျိန်ဆိုသည်ကို ငါကြား၏။
၈ ထိုစကားကိုငါကြား၍နားမလည်သော်၊ ငါ့သခင်ဘုရား၊ ဤအမှု အရာတို့သည် အဘယ်သို့
၉ ကုန်စင်ပါမည်နည်းဟုမေးလျှောက်လျှင်၊- ဒံ ယေလ၊ ဝင်သွားလော့၊ ထိုစကားသည် အမှုကုန်ရသည်ကာလ တိုင်အောင် မိတ်၍ တံ
၁၀ ဆိပ်ခတ်ထားလျက်ရှိ၏။- လူ အများ တို့သည် သန့်ရှင်း ဖြူစင်ခြင်းသို့ ရောက်၍ စုံစမ်းခြင်းကိုခံ ရကြလိမ့်မည်၊ မတရားသောသူတို့သည်မတရား သဖြင့်ပြု၍တယောက်မျှနားမလည်ရ၊ ပညာရှိ
၁၁ သောသူတို့မူကား၊ နားလည်ကြလိမ့်မည်။- ရှေ့ ရက်အစဉ် ပြုသောဝတ်ကို ပယ်ရှင်း၍၊ ဖျက် ဆီးတတ်သော ရွံရှာဖွယ် အရာသည် ပေါ်ထွက် ပြီးမှ၊ အရက်တထောင်နှစ်ရာကိုးဆယ်ကြာလိမ့်
၁၂ မည်။- ရက် တထောင် သုံးရာ သုံးဆယ် ငါး ရက်တိုင်အောင်ငံ့လင့်၍မှီသောသူသည်မင်္ဂလာ
၁၃ ရှိ၏။- သင်မူကား၊ အဆုံး မဖြစ်မှီ တိုင်အောင် သွားလော့၊ ငြိမ်ဝပ်စွာနေရလိမ့်မည်၊ နေ့ရက် ကာလကုန်စင်ပြီးမှ၊ ကိုယ်အဖို့ အရာကို ခံ၍ ပေါ်ရလိမ့်မည်ဟု ဆို၏။

ပရောဖက်ဒံယေလ မိရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

---

# ဟောရှေအနာဂတ္တိကျမ်း။

## HOSEA.

၁

၁ ယုဒ ရှင်ဘုရင် ဩဇိမင်း၊ ယောသံမင်း၊ အာ ခတ်မင်း၊ ဟေဇကိမင်း၊ ဣသရေလ ရှင်ဘုရင် ယောရှသား ယေရောဗောင်မင်းတို့လက်ထက်၊ ဗေရိ၏ သားဟောရှေသို့ ရောက်လာသောထာ ဝရဘုရား၏ နှုတ်ကပတ် တော် အစ အဦးဟူမူ ကား။-သင်သွား၍ပြည်တန်ဆာမိန်းမနှင့်တကွသူ ဖွားမြင်သော သား သမီး တို့ကို သိမ်းပိုက်လော့၊ အကြောင်းမူကား၊ ပြည်သားတို့သည် ထာဝရ ဘုရားကို စွန့်ပစ်၍ အထပ်ထပ် မှားယွင်းကြပြီ ဟု၊ ဟောရှေအား မှာ ထား တော်မူ သည် အ
၃ ဆိုအား- ဟောရှေသည်သွား၍ ဒိဗလိမ်သမီးဂေါ မာကိုသိမ်းပိုက်ဆဖြင့်၊သူသည်ပဋိသန္ဓေယူ၍ ဟောရှေ၌ သားယောက်ျားကို ဖွားမြင်လေ၏။-
၄ ထာဝရဘုရားကလည်း၊ ထိုသားကိုယေဇရေ လအမည်ဖြင့် မှည့်လော့၊ အကြောင်းမူကား၊ ခဏ ကြာ ပြီးမှ ယေဇရေလ အသွေးကို သွန် သောအပြစ်ကြောင့်၊ ယေဟုအမျိုးကို ငါ အပြစ် ဒါဏ်ပေး၍ ဣသရေလ အမျိုး၏ နိုင်ငံကို ဆုံးစေ
၅ မည်။-ဣသရေလ လေးကို ယေဇရေလ ချိုင့် ၌ ငါချိုးသောနေ့ရှင်းတွင်ထိုအမှုပြည့်စုံလိမ့်မည် ဟုမိန့်တော်မူ၏။
၆ ထမိန် ပဋိသန္ဓေယူ၍ သမီးကို ဖွားမြင်သော်၊ ထိုသမီးကိုလောရုဟာမာအမည်ဖြင့်မှည့်လော့၊ အကြောင်းမူကား၊ ငါသည် ဣသရေလ အမျိုး ကိုနောက်တဖန်မသနားမစုံမှတ်၍ ဆက်ဆံ၍

၇ ပယ်ရှင်းမည်။- ယုဒအမျိုးကိုကား၊သနားစုံမက်
ဦးမည်။ သို့ရာတွင်၊ လေး၊ထား၊ စစ်တိုက်ထက်
နက်၊ မြင်း၊ မြင်းစီးသူရဲအားဖြင့် မကယ်တင်၊
သူတို့၏ ဘုရား သခင် ထာဝရဘုရား အား ဖြင့်
ကယ်တင်မည်ဟုမိန့်တော်မူ၏။
၈ လောရုဟာမကို နို့ ဖြတ်သောအခါ၊အမိသည်
ပဋိသန္ဓေယူပြန်၍ သားယောက်ျားကို ဖွားမြင်
၉ လေ၏။- ထိုသားကို လောအမ္မိအမည်ဖြင့် မှည့်
လော့။အကြောင်းမူကား၊ သင်တို့သည်ငါ၏လူ
မဟုတ်။ ငါသည်လည်း သင်တို့ ၏ ဘုရားသခင်
၁ မဟုတ်။- သို့ရာတွင်၊ ဣသရေလအမျိုးသားတို့
သည် မခြင်နိုင်၊ မရေတွက်နိုင်သောသမုဒ္ဒရာသဲ
လုံးနှင့်အမျှများကြလိမ့်မည်။ သင်တို့သည် ငါ
၏လူမဟုတ်ဟု၊ထိုသူတို့အားပြောဆိုရာအရပ်၌
ပင်လျှင်၊ သူတို့သည် အသက် ရှင်တော်မူသော
ဘုရားသခင်၏ သားဟု ခေါ်ဝေါ်ခြင်းကို ခံရကြ
၁၁ လိမ့်မည်။-ထိုအခါယုဒအမျိုးသားတို့နှင့် ဣသ
ရေလ အမျိုးသားတို့သည် စုဝေး ပေါင်းဖော်၍၊
မင်း တဦး တည်း ကို ရွေးကောက် သဖြင့်ထိုပြည်
ထဲကထွက်လာကြလိမ့်မည်။ ယေဇရေလ နေ့
သည် ကြီးမြတ် သော နေ့ဖြစ် ရလိမ့် မည်ဟု မိန့်
တော်မူ၏။

၂

၁ သင်တို့ ညီအစ်ကိုများကို ငါ၏ လူဟူ၍ ဝင်၊
သင်တို့ နှမများကို သနားစုံမက်အပ်သော သူ
၂ ဟူ၍ဝင်တဖန်ခေါ်ကြလော့။- သင်တို့ အမိနှင့်
ဆွေးနွေးကြလော့။သူသည်ငါ၏မယားမဟုတ်၊ငါ
သည် ထည်း သူ ထင် မဟုတ်ကြောင်းကို ဆွေး
နွေးကြလော့။ပြည်တန်ဆာမျက်နှာကိုပယ်၍
၃ မှားယွင်းခြင်းအမှုကို ရှောင်စေ။- မရှောင်လျှင်
သူ၏ အဝတ်ရှိသမျှကို ငါချွတ်၍၊ သူဖွားသော
နေ့၌အဝတ်မရှိသကဲ့သို့အဝတ်မပါ၊ပြင်၌ထုတ်
ထားမည်။ လွင်ပြင်ကဲ့သို့ သုတ် သင်မည်။ သွေ့
ခြောက်သော မြေကဲ့သို့ ဖြစ်စေလျက် ရေအငတ်
၄ ထား၍သေစေမည်။- သူ၏သားသမီးတို့သည်သူ
မျောက်မ ထား၍ ရ သော သားသမီး ဖြစ် သော
ကြောင့်သူတို့ကိုငါမသနားမစုံမက်ဘဲနေမည်။-
၅ သူတို့အမိသည် ပြည်တန်ဆာ ဖြစ်၏။ သူ တို့ ကို
ပဋိသန္ဓေယူသောသူသည် ရှက်ဖွယ်သောအမှု
ကိုပြုပြီ။ သူကလည်း၊ငမုန့်၊ ငရေ၊ ငသိုးမွေး၊င
ပိုက်ဆန်၊ ငဆီ၊ ငါသောက်သောအရည် တို့ကို
ပေးတတ်သော ငါ့ ရည်း စား များ နောက်သို့ ငါ
၆ လိုက်မည်ဟုဆိုပြီ။- သို့ဖြစ်၍၊ သူကိုဆူးစောင်
ရန်းနှင့်ကာထားမည်။ထွက်စရာမရှိစေခြင်းငှါ
သုပတ်ထည်၌ကျောက်ရိုးကိုလည်းတပ်မည်။-
၇ သူသည်ရည်းစားတို့ကိုလိုက်သော်ထည်းမမှီ၊
ရှာသော်ထည်း မတွေ့ဘဲ နေရသော အခါ၊ ထင်
ဟောင်းထံသို့ငါပြန်သွားမည်။ယခုနေရာထက်
အရင် နေ ရာ သာ ၍ ကောင်း သည် ဟု ဆိုလိမ့်
၈ မည်။- ဆန်စပါး၊ စပျစ်ရည်၊ ဆီတို့ကိုငါပေးသ
နား သည်ဟူ၍ ဝင်၊ ဗာလ ဘုရား အား ပူဇော်
သော ရွှေနှင့်ငွေကို သူ၌ငါများပြားစေသည်ဟူ
၉ ၍ဝင် သူသည်မအောင်းမေ့ပါတကား။- သို့ဖြစ်
၍၊စပါးမိတ်ရာကာလ၌ငစပါးကိုဝင်၊ စပျစ်ရည်
လုပ်ရာ ကာလ၌ ငစပျစ်ရည် ကိုဝင်၊ သူ၏ကိုယ်
ကို ဖုံးအုပ်စရာ ငသိုးမွေးနှင့် ပိုက်ဆန်ကိုဝင်ငါ
၁၀ သိမ်းယူမည်။-ယခုပင်သူ၏ရည်းစားများရှေ့၌
သု အဝတ်ကို ငါ ဖျက်ဆုတ်၍ အရှက်ခွဲ မည်။ င
၁၁ လက်မှ အဘယ်သူမျှ သုကို မနှုတ်ရ။- သူ ရွှင်
လန်းစရာ အကြောင်း ရှိသမျှ နှင့် ပွဲခံခြင်း၊ လ
ဆန်းနေ့၊ ဥပုသ်နေ့စောင့်ခြင်း၊ပရိသတ်စည်း
၁၂ ဝေးခြင်းအလုံးစုံတို့ကိုငါပြတ်စေမည်။-ဤသပိ
ကား၊ငရည်းစား ပေးသောဆုလက်ဆောင်ဖြစ်
သည်ဟု သူဆိုရာစပျစ်ဥယျာဉ်၊ သင်္ဘောသဖန်း
ဥယျာဉ်တို့ကို ငါသုတ်သင်ပယ်ရှင်း၍၊ လွင်ပြင်
ဖြစ်စေသဖြင့် တော သားရဲ တို့သည် ကိုက်စား
၁၃ ကြလိမ့်မည်။-ဗာလဘုရားတို့အားနံ့သာပေါင်း
ကိုမီးရှို့၍၊နားခေါင်းဆွဲနှင့် ထည်ဆွဲတန်ဆာကို
ဆင်လျက်ရည်းစားများနောက်သို့လိုက်သဖြင့်၊
ငါကိုမေ့လျော့၍ဗာလဘုရားတို့ ထက်ထက်၌ပြု
မိသော အပြစ်နှင့် အလျောက် ငါ စီရင် မည်ဟု၊
ထာဝရဘုရားမိန့်တော်မူ၏။
၁၄ သို့ရာတွင်၊ သုကိုတဖန် ငါဖြားယောင်းမည်။
တော ထဲ့ဖြင့် ပို့ဆောင် သော်ထည်း နှစ်သိမ့်
၁၅ စေသော စကားကို ပြောမည်။- တော တဖက်၌
စပျစ်ဥယျာဉ်တို့ကိုဝင်၊အာခေါ်ချိုင့်၌မျှော်လင့်ရာ
တံခါးကိုဝင် ငါပေးမည်။ သူသည်အသက်ငယ်
စဉ်ကာလ၊ အဲဂုတ္တုပြည်မှ ထွက်လာသောအခ
ါ၊ သီခြင်းဆိုသကဲ့သို့၊ တောတဖက်သို့ရောက်
၁၆ သောအခါ သီခြင်း ဆို ရ လိမ့် မည်။- ထာဝရ
ဘုရား မိန့်တော်မူသည်ကား၊ ထိုကာလ၌ သင်
သည်ငကိုသခင်ဟူ၍မခေါ်ရ၊ ခင်ပွန်းဟူ၍ခေါ်
၁၇ ရမည်။- အခြားတပါးသောသခင်တို့၏ ဘွဲ့နာမ
များကိုသူ၏နှုတ်မှငါပယ်၍၊ ထိုဘွဲ့နာမများကို

၁၈ နေ့ရက်တနေ့ မှတ်မိစေခြင်းဆိုရ။- ထိုကာလ၌
ငါသည် သူတို့အ တွက်၊ တောသားရဲ၊ မိုဃ်း
ကောင်းကင်ငှက်၊ မြေပေါ်မှာ တွား တတ် သော
တိရိစ္ဆာန်များနှင့်မိဿဟာယဖွဲ့၍၊လေး၊ထား၊
စစ်တိုက်ထက်နက်တို့ကို မြေပေါ်ကပယ်ရှား၍
မြို့၊ သူတို့ သည် မိုးရိပ် ခြင်း၊ မရှိဘဲ အိပ် ရကြ
၁၉ ထိမ့်မည်။-ငါသည်ကိုယ်အမှုသင့်ကိုအစဉ်အ
မြဲထိမ်းယူမည်၊ ဖြောင့်မတ်ခြင်း၊တရားသဖြင့်
စီရင်ခြင်း၊ ချစ်သနား၊ စုံမက်ခြင်း၊နှင့်အညီကိုယ်
၂၀ အမှုသင့်ကိုသိမ်းယူမည်။-သစ္စာစောင့်ခြင်း၊နှင့်
အညီ သိမ်းယူ၍၊ သင်သည် ယာဝရဘုရားကို
၂၁ သိရလိမ့်မည်။-ယာဝရဘုရားမိန့်တော်မူသည်
ကား၊ထိုကာလ၌ငါသည်နား၊ထောင်မည်၊မိုဃ်း
ကောင်းကင်စကား၊ကို နား ထောင်၍၊ သူသည်
၂၂ မြေကြီးစကား၊ကိုနား၊ထောင်မည်၊ မြေကြီးသည်
လည်း၊ ဆန်စပါး၊ စပျစ်ရည်၊ ဆီတို့၏ စကား၊ကို
နား၊ထောင်၍၊ သူတို့ သည် လည်း၊ ယေဇရေလ
၂၃ စကား၊ကိုနား၊ထောင်ကြလိမ့်မည်။-ထိုသတို့သမီး၊
ကို မြေ၌ ကဲ့သို့ မြေ၌ ကိုယ် အဖို့ ငါကြဲမည်၊ မ
သနား၊မစုံမက်အပ်သော သတို့သမီး၊ကို ငါသနား၊
စုံမက်မည်၊ ငါ၏ လူမဟုတ်သော သူကို လည်း၊
သင်သည်ငါ၏ လူဖြစ်သည်ဟုငါဆိုမည်၊ သူက
လည်း၊ ကိုယ် တော် သည် အကျွန်ုပ်၏ ဘုရား၊
သခင်ဖြစ်တော်မူသည်ဟု၊လျှောက်လိမ့်မည်ဟု
မိန့်တော်မူ၏။

၃

၁ တဖန် ယာဝရဘုရား၊က၊ ဣသရေလ အမျိုး၊
သားတို့သည် အခြား၊တပါး၊သော ဘုရား၊ တို့ကို
ရှုမျှော်၍၊စပျစ်သီး၊ပျဉ်ကိုအလိုရှိသော်လည်း၊
ယာဝရဘုရား၊ ချစ်တော်မူသည်နည်း၊တူ၊ မိမိခင်
ပွန်း၏ ချစ်ခြင်း၊ကိုခံလျက် မျောက်မ ထား၊သော
မိန်းမကို သွား၍ ချစ်ဦး၊လော့ဟု၊ ငါ့အား မှာထား၊
၂ တော်မူသည်အတိုင်း၊-ထိုမိန်းမကိုငွေ ဘဆယ်ငါး၊
ကျပ်၊ရှေးဘောဆန်တဟောမဲစွဲနှင့် ငါရွေး၊ပြီး၊မှ၊-
၃ သင်သည်ငါ့အဖို့နေ့ရက်များ၊စွာစောင့်၍နေရမည်၊
ပြည်တန်ဆာမလုပ်ရ၊ အခြား၊သောယောကျ်ား၊
နှင့်မပေါင်း၊ဖော်ရ၊သို့ပြုလျှင်၊သင့်အဖိုငါစောင့်
၄ ၍နေမည်ဟု ပြောထား၏။- အကြောင်း၊မူကား၊
ဣသရေလ အမျိုး၊သားတို့သည် နေ့ရက်များ၊စွာ
ရှင်ဘုရင်မရှိ၊ မင်း၊သား၊မရှိ၊ ယဇ်ပူဇော်ခြင်း၊မ
ရှိ၊ဆင်း၊တုမရှိ၊ သင်ထိုင်း၊မရှိ၊ တေရပ်ရုပ်တုမ
၅ ရှိဘဲနေရကြလိမ့်မည်။- ထိုနောက်မှဣသရေလ
အမျိုး၊သားတို့သည်ပြန်လာ၍၊သူတို့ဘုရား၊သခင်
ယာဝရ ဘုရား၊ကိုငှင်၊ သူတို့ ရှင်ဘုရင် ဒါဝိဒ်ကို
ငှင်ရှာ၍၊ နောင်ကာလ၌ ကျေး၊ဇူး၊ တော်ကိုခံစား
သော၌၊ ယာဝရ ဘုရား၊ ထံ တော် သို့ တုန်လှုပ်
လျက် ပြေး၊ကြလိမ့်မည်။

၄

၁ အိုဣသရေလ အမျိုး၊သားတို့၊ယာဝရဘုရား၏
အမိန့် တော်ကို နား၊ ထောင် ကြ လော့၊ ယာဝရ
ဘုရား၊သည်ပြည်သူပြည်သားတို့နှင့်တရားတွေ့
မှုရှိတော်မူ၏၊ အကြောင်း၊မူကား၊၊ သူတို့ သည်
သစ္စာမရှိ၊ ကရုဏာမရှိ၊ ဘုရား၊ သခင်ကို မသိ
၂ ကြ။- ကျိန်ဆဲခြင်း၊၊ မုသာစကား၊ကို ပြောခြင်း၊
လူအသက်ကိုသတ်ခြင်း၊၊ သူ့ဥစ္စာကိုခိုး၊ခြင်း၊ သူ
မယား၊ကို ပြစ်မှား၊ခြင်း၊တို့၌ အဆီး၊အတား၊ မရှိ၊
လူ အသက်ကို သတ်သော အပြစ် အထပ်ထပ်ရှိ
၃ ကြ၏။- ထိုကြောင့်၊ ပြည်သည်ငိုကြွေးလိမ့်မည်၊
ပြည်သား၊ အပေါင်း၊တို့နှင့် တကွ တော သားရဲ၊
မိုဃ်း၊ကောင်း၊ကင် ငှက်တို့သည် အား၊ လျော့ ကြ
လိမ့်မည်၊ ပင်လယ်ငါး၊တို့သည်လည်း၊ ကုန်ကြ
၄ လိမ့်မည်။- သို့ရာတွင်၊ အ ဘယ်သူမျှမဆဲ၊ဆို၊
စေနှင့်၊အဘယ်သူမျှမဆုံးမစေနှင့်၊အကြောင်းမူ
ကား၊သင်၏အမျိုး၊သား၊ချင်း၊တို့သည်ယဇ်ပုရော
ဟိတ်နှင့်ဆန့်ကျင်ဘက်ပြုသောသူကဲ့သို့ဖြစ်ကြ
၅ ၏။- ထိုကြောင့်၊နေ့အချိန်၌သင်သည်လဲရလိမ့်
မည်၊ ညည့် အချိန်၌ သင် နှင့် အတူ ပရောဖက်
သည်လည်း၊ လဲရလိမ့်မည်၊ သင့်အမိကိုလည်း၊
၆ ငါဖျက်ဆီး၊မည်။-ငါ့လူတို့သည်ပညာနည်း၊သော
ကြောင့် ဆုံး၊ရှုံး၊ကြ၏၊ သင်သည် ပညာကို ဝတ်
သော ကြောင့်၊ ငါ့ ယဇ် ပုရောဟိတ် အ ဖြစ် သို့
မရောက် စေခြင်း၊ငှါ သင့်ကို ငါ ပယ်မည်၊ သင်
၏ ဘုရား၊ သခင် တရား၊ကို သင် မေ့လျော့ သော
ကြောင့်၊သင်၏သား၊သမီး၊တို့ကို ငါမေ့လျော့မည်။-
၇ သူတို့သည်ဘုန်း၊ထိုး၊ပွား၊သည်အတိုင်း၊ငါ့ကိုပြစ်
မှား၊ကြပြီ၊ သို့ဖြစ်၍၊သူတို့၏ ဘုန်း၊ကိုငါအရှက်
ကွဲစေမည်။- ငါ့လူတို့၏ အပြစ်ဖြေရာ ယဇ်တို့ကို
စား၊လျက်နှင့်ပင်၊ထိုအပြစ်ကိုမိတ်ဖွဲ့ထစ်၊ထေတ်
၈ ကြ၏။- ထိုကြောင့်၊ လူတို့၌ ဖြစ်သကဲ့သို့ ယဇ်
ပုရောဟိတ်၌ဖြစ်လိမ့်မည်၊သူတို့အကျင့်များ၊ကို
၉ ငါစစ်ကြော၍၊အသီး၊အသီး၊ပြုမူသမျှအတိုင်း၊အ
၁၀ ကျိုး၊အပြစ်ကိုပေး၊မည်။-သူတို့သည်စား၍မဝရ
ကြ၊ မတရား၊သော မေထုန်ကိုပြု၍ သား၊မြေး၊ကိုမ
၁၁ ပွား၊မြင်ရကြ။- အကြောင်း၊မူကား၊၊မိတ်ဖွဲ့စီထုံး၊

ကို ယစ်မူးစေတတ်သော ကာမဂုဏ်၌ ပျော်မွေ့ခြင်း၊ စပျစ်ရည်နှင့်သေရည်သေရက်ကိုသောက်ခြင်း၌ မှိုဝဲသောကြောင့်၊ ထာဝရဘုရားကို စွန့်ပြစ်ကြပြီ။
၁၂ ငါ့လူတို့သည်သစ်သားနှင့်တိုင်ပင်တတ်ကြ၏။ သူတို့၏တောင်ဝေးသည်အကြံပေးတတ်၏။ ထိုလောသာစိတ်အားကြီးသောကြောင့်၊သူတို့သည် ထမ်းသွဲ၍ မိမိတို့ဘုရားသခင်ထံမှာ မနေ၊ မှား
၁၃ ယွင်းတတ်ကြ၏။-တောင်ထိပ်ပေါ်၊ကုန်းပေါ်မှာ၎င်း၊ အရိပ်ကောင်းသောသပိတ်ပင်မျိုး၊ ထိဗနာပင်အောက်မှ၎င်း၊ယဇ်ပူဇော်၍နံ့သာပေါင်းကိုမီးရှို့တတ်ကြ၏။ထိုကြောင့်၊ သင်တို့သမီးတို့သည် ယောကျာ်းနှင့် မှားယွင်း၍၊ ချွေးမ တို့ သည်
၁၄ ဖျောက်မ ထား တတ်ကြ၏။- သင်တို့ သမီး တို့သည်ယောကျာ်းနှင့်မှားယွင်း၍၊ချွေးမတို့သည် ဖျောက်မ ထား သော်လည်း ငါမစစ်ကြော။ အကြောင်း မူကား၊ ယောကျာ်း တို့သည် ကိုယ် မယားကို စွန့်ပြစ်၍ ပြည်တန်ဆာတို့နှင့် ပေါင်းဖော်တတ်ကြ၏။မိမ့ရှင်တို့နှင့်အတူယဇ်ပူဇော်တတ်ကြ၏။သို့ဖြစ်၍၊ပညာမရှိသောသူတို့သည် ဆုံးရှုံးကြလိမ့်မည်။
၁၅ အိုဣသရေလအမျိုး၊သင်သည်ပြည်တန်ဆာလုပ်သော်လည်း၊ ယုဒအမျိုးကို မမှား ယွင်း ပါစေနှင့်။ ဂိလဂါလမြို့သို့မချဉ်းကပ်ကြနှင့်။ ဗေသဝင်မြို့ သို့ မ သွား ကြနှင့်။ ထာဝရဘုရား အသက်ရှင်တော်မူသည် အတိုင်းဟူ၍ မကျိန်ဆို
၁၆ ကြနှင့်။-ဣသရေလအမျိုးသည်ရုန်းတတ်သောနွားမ ပျိုကဲ့သို့ ဆန့်ကျင်ဘက် ပြုတတ်၏။ ယခုမှာထာဝရဘုရားသည် ကျယ်သောအရပ်၌သိုးသငယ်ကို ထိန်းသကဲ့သို့၊ ဣသရေလ အမျိုးကို
၁၇ ပြုတော်မူမည်။- ဧဖရိမ်သည်ရုပ်တုတို့၌စွဲကပ်
၁၈ လျက်ရှိ၏။ သူကိုတတ်တိုင်းရှိစေလော့။- သူတို့စားသောက်ပွဲခံမြိန်လွန်ပြီ။ မင်းလုပ်သော သူတို့သည် အထပ်ထပ် မတရားသော မေဓုန်ကိုပြုကြပြီ။ရှက်ဖွယ်သောအမှုကို တပ်မက်ကြပြီ။-
၁၉ လေသည် မိမိအတောင်တို့နှင့် တိုက်၍ ပါသွားမည်။ သူတို့သည်မိမိတို့ပူဇော်သော ယဇ်များကြောင့်ရှက်ကြလိမ့်မည်။

၅

၁ အို ယဇ်ပုရောဟိတ်တို့၊ ကြားကြလော့။ အို ဣသရေလအမျိုးသားတို့၊ နားထောင်ကြလော့။ အို နန်းတော် သားတို့၊ မှတ်မိကြလော့။ သင်တို့သည် စစ်ကြော စီရင် ခြင်းကို ခံ ရကြ မည်။ အကြောင်းမူကား၊သင်တို့သည်မိဇပါတောင်ပေါ်မှာကျော့ကွင်း၊ တာဗော်တောင်ပေါ်မှာ ထောင်
၂ သော ပိုက်ဖြစ်ကြပြီ။- ယစ်ကောင်တို့ကို သတ်သောအားဖြင့် မိမိတို့အပြစ်ကို များပြား စေကြ၏။ ထိုကြောင့်၊ ငါသည် ထိုသူအပေါင်းတို့၌ အ
၃ ပြစ်ဒဏ်ပေးမည်။- ဧဖရိမ်ကို ငါသိ၏။ ဣသရေလသည်လည်းငါ့ရှေ့မှ ပုန်းရှောင်၍မနေနိုင်။ ယခုပင် အိုဧဖရိမ်၊ သင်သည်မှားယွင်း၍ ဣသ
၄ ရေလသည်ညစ်ညူးခြင်းရှိ၏။- သူတို့သည်ပြုမူသောကြောင့်၊သူတို့၏ဘုရားသခင်ထံတော်သို့ ပြန်၍ မလာနိုင်ကြ။ မှားယွင်းသော သဘောသည် ထမ်းသည်ဖြစ်၍၊ထာဝရ ဘုရားကို မသိကြ။-
၅ ဣသရေလအမျိုး၏မာနသည် သူမျက်မှောက်၌ သက်သေခံ၏။ ထို့ကြောင့်၊ ဣသရေလ နှင့် ဧဖရိမ်သည်မိမိတို့အပြစ်၌လဲ၍၊ သူတို့နှင့်အတူ
၆ ယုဒအမျိုးသည်လည်းလဲလိမ့်မည်။-သိုးနွားစုပါလျက်၊ ထာဝရ ဘုရားကို ရှာခြင်းငှါ သွားကြသော်လည်းမတွေ့ရကြ။ သူတို့နှင့်ကွာတော်
၇ မူပြီ။- သူတို့သည် ထာဝရ ဘုရား ထံတော်၌ ခိုသော သစ္စာကို ဖျက်ကြပြီ၊ အကြောင်းမူကား၊ တပါးအမျိုးသားတို့ကို ဖွားမြင်ကြပြီ။ ထဆန်းနေ့ရောက်မှ သူတို့နှင့် သူတို့ ဥစ္စာသည် ပျက်စီးလိမ့်မည်။
၈ ဂိဗာမြို့၌ ခွာရာကိုင်၊ ရာမမြို့၌ တံပိုးကိုင်မှုတ်ကြလော့။ ဗေသဝင် မြို့၌ ကြွေး ကြော် ကြလော့။ အိုဗယ်ာမိန်အမျိုး၊ နောက်သို့ကြည့်ကြ
၉ လော့။- ဣသရေလ အမျိုး အပြစ်ဒဏ်တို့ကို ဆုံးဖြတ်ပေးသောနေ့၌ ဧဖရိမ်သည်ပျက်စီးရလိမ့်မည်။ ဆက်ဆက်ဖြစ်လတံ့သော အမှုကိုငါဖော်
၁၀ ပြ၏။- ယုဒမင်းတို့သည် မြေမှတ်တိုင်တို့ကို ရွှေ့သော သူကဲ့သို့ဖြစ်ကြ၏။ ငါသည် သူတို့အပေါ်သို့ ငါ့အမျက်ကို ရေကဲ့သို့ သွန်း လောင်း မည်။-
၁၁ ဧဖရိမ်သည်ညှဉ်းဆဲခြင်းကိုခံရ၏။ တရားစီရင်ခြင်းနှင့် တွေ့၍ဆုံးရှုံးရ၏။ အကြောင်းမူကား၊
၁၂ အမိန့်တော်အတိုင်းကျင့်လေပြီ။-ထိုကြောင့်၊ငါသည်ဧဖရိမ်၌ကိုက်တတ်သောပိုးကောင်၊ ယုဒအမျိုး၌ စားတတ်သော အနာကဲ့သို့ ဖြစ်မည်။-
၁၃ ဧဖရိမ်သည် မိမိအပေါက်တို့ကိုင်၊ ယုဒသည် မိမိအနာကို၎င်းမြင်သောအခါ၊ ဧဖရိမ်သည်အာရှုရိမင်းထံသို့ သွား၍၊ ယုဒသည်ရှင်ဘုရင်ယာရက်ထံသို့စေလွှတ်သော်လည်း၊ ထိုမင်းသည်

သင်တို့ အပေါက်ကိုမဖော နိုင်၊ အနာကိုထပ်ငြိမ်းမ
၁၄ ပျောက်စေနိုင်ကြ။- အကြောင်းမူကား၊ ငါသည်
ဧဖရိမ်၌ ခြင်္သေ့ကဲ့သို့၎င်၊ ယုဒအမျိုး၌ခြင်္သေ့
ပျိုကဲ့သို့၎င် ဖြစ်မည်။ ငါသည်ကိုယ်တိုင် ကိုက်
ဖြတ်၍ သွားမည်။ ယူသွား၍ အဘယ်သူမျှ မ
၁၅ နှုတ်ရ။- သူတို့သည် ကိုယ်အပြစ်ကိုဝန်မချ၊ ငါ့
မျက်နှာကိုမရှာမှီတိုင်အောင်၊ ငါသည်ကိုယ်နေ
ရာသို့ ပြန်သွား၍နေမည်။ အမှုရောက်သော အ
ခါ၊ သူတို့သည်ငါ့ကိုကြိုးစား၍ရှာကြလိမ့်မည်။

၆

၁ လာကြ၊ ထာဝရဘုရားထံတော်သို့ပြန်ကြကုန်
စို့။ ကိုယ်တော်သည် ကိုက်ဖြတ် သော်လည်း
ပကတိ ဖြစ်စေ တော်မူ မည်။ ဒဏ်ခတ် သော်
လည်းအနာကိုစည်းတော်မူမည်။- နှစ်ရက်လွန်
ပြီးမှ ငါတို့ကိုအသက်ရှင်စေ၍၊ သုံးရက်မြောက်
သောနေ့၌ ထမြောက်စေတော်မူသဖြင့်၊ အထံ
တော်၌ ငါတို့သည် အသက် ရှင်ကြလိမ့်မည်။-
၃ ပညာကိုလည်း ရကြလိမ့်မည်။ ထာဝရ ဘုရား
ကိုသိခြင်းငှါလိုက်ရှာကြလိမ့်မည်။ထွက်တော်
မူချိန်သည် နံနက်ကဲ့သို့ ဖြစ်လိမ့်မည်။ ရွာသော
မိုဃ်းနှင့်၊ မြေအပေါ်သို့ရွာသောနောက် မိုဃ်း
ကဲ့သို့သက်ရောက်တော်မူလိမ့်မည်။
၄ အိုဧဖရိမ်၊ သင်၌အဘယ်သို့ငါပြုရမည်နည်း။
အိုယုဒ၊ သင်၌ အဘယ် သို့ ငါ ပြု ရ မည် နည်း။
သင်တို့ ကြည်ညို သော စိတ်သည် နံနက် မိုဃ်း
တိမ် ကဲ့သို့၎င်၊ စောစောပျောက်တတ်သောနှင်း
၅ ကဲ့သို့၎င်ဖြစ်၏။- ထိုကြောင့်၊သူတို့ကိုပရောဖက်
များအားဖြင့်ငါသည်အပိုင်းပိုင်းခုတ်ဖြတ်ရပြီ။
ငါ့နှုတ်ထွက် စကား အားဖြင့် သတ်ရပြီ။ ငါစီရင်
ချက်တို့သည်လည်း ထွန်းလင်းသောအလင်းကဲ့
၆ သို့ ဖြစ်ကြပြီ။- ယဇ်ပူဇော်ခြင်း အကျင့်ထက်
သနားခြင်းကရုဏာအကျင့်ကို၎င်၊မီးရှို့ရာယဇ်
ပူဇော်ခြင်းထက်ဘုရားသခင်နှင့်ကျွမ်းဝင်ခြင်း
၇ ကို၎င် ငါနှစ်သက်၏။- သူတို့သည် အာဒံကဲ့သို့
ပဋိညာဉ်ကိုလွန်ကျူးကြပြီ။ နေရင်း အရပ်၌ ငါ
၈ သစ္စာကို ဖျက်ကြပြီ။- ဂိလဒ်မြို့သည် အဓမ္မပြု
သောသူတို့နေရာဖြစ်၍၊လူအသွေးနှင့်စွန်းသော
၉ မြေရာများ၏။- ထားပြအလုံးအရင်းသည် ခရီး
သွားသောသူကိုချောင်း၍ကြည့်သကဲ့သို့၊ယဇ်
ပရောဟိတ် အပေါင်းအသင်းသည် ရှေခင်မြို့သို့
သွားသောလမ်း၌ပင် လူအသက်ကို သတ်တတ်
၁၀ ကြ၏။- အကယ် စင်စစ် အဓမ္မအမှုကို ပြုတတ်
ကြ၏။ ကြောက်မက်ဖွယ်သော အမှုကိုဣသရေ
လ အမျိုး၌ ငါမြင်ပြီ။ ထိုအမျိုး၌ ဧဖရိမ်သည်
မှားယွင်း တတ် ၏။ ဣသရေလ သည် ညစ်ညူး
၁၁ ခြင်းရှိ၏။- ထိုမှတပါး၊ အိုယုဒအမျိုး၊သိမ်းသွား
သော ငါ၏လူတို့ကို ငါဆောင်ခဲ့ ပြန် သောအခါ၊
စပါး ရိတ်ရာ ကာလ သည် သင့်အဖို့ ခန့် ထား
လျက်ရှိ၏။

၇

၁ ဣသရေလ၏အနာကိုပျောက်စေခြင်းငှါ ငါပြု
သောအခါ၊ ဧဖရိမ်၏ အပြစ်နှင့် ရှမာရိပြုသော
အဓမ္မ အမှု သည် ထင်ရှား ပြန်၏။ သူတို့ သည်
သစ္စာ ဖျက်ကြ ပြီ။ အထဲ သို့ သူခိုးဝင် တတ် ၏။
ပြင်၌လည်းထားပြအလုံးအရင်းတို့သည် တိုက်
၂ တတ်ကြ၏။- သူတို့ပြုသမျှသော အဓမ္မအမှုကို
ငါ မှတ်မိသည်ဟု၊ မိမိတို့ စိတ် နှလုံး ထဲမှာ မ
အောင်းမေ့ကြ။ ယခုပင် ထိုအမှု တို့သည် သူတို့
၃ ကိုဝိုင်းကြပြီ။ ငါ့မျက်မှောက်တွင် ရှိကြ၏။- ဆိုး
ညစ်သော အမှုအားဖြင့်ရှင်ဘုရင်ကို၎င်၊ မုသာ
စကားအားဖြင့် မင်းများကို၎င် ဝမ်းမြောက်စေ
၄ ကြ၏။-ထိုသူအပေါင်းတို့သည်မတရားသောမေ
ထုန်ဖြင့် မှားယွင်းသော သူဖြစ်၍၊ မီးထည့်သော
ရန့်သည်၏မီးဖိုနှင့်တူကြ၏။ရန့်မှုန့်ကိုနယ်ပြီး
မှ မဖောင်းကြွမှီတိုင်အောင်၊မီးကိုမဆော်ဘဲငြိမ်
၅ ဝပ်စွာနေရ၏။- ငါတို့ရှင်ဘုရင်၏နှစ်စဉ်ပွဲနေ့၌
မင်းတို့သည် စပျစ်ရည် အရှိန် နှင့် သစ်မူး၍ ရှင်
ဘုရင်သည် မထီမဲ့မြင်ပြုသော သူတို့ကို လက်ခံ
၆ တတ်၏။- အကယ်စင်စစ်သူတို့သည် ချောင်း၍
ကြည့်လျက်နေကြစဉ်၊မိမိတို့နှလုံးကိုမီးဖိုကဲ့
သို့ပြင်ဆင်ကြပြီ။ သူတို့ ရန့်သည်သည် တညဉ့်
လုံး အိပ် သော် လည်း၊ နံနက်အချိန် ၌ တောက်
သောမီးကဲ့သို့တောင်လျက်ရှိ၏။-ထိုသူအပေါင်း
တို့သည် မီးဖိုကဲ့သို့ပူကြ၏။ မိမိတို့တရားသူကြီး
များကို လောင်ကြ ပြီ။ သူတို့ရှင်ဘုရင် အပေါင်း
တို့ သည် လဲကြ ပြီ။ ငါ့ကို ထိ ခေါ်သော သူ တ
၈ ယောက်မျှမရှိ။- ဧဖရိမ်သည်တပါးအမျိုးသား
တို့နှင့်ပေါင်းဖော်ရောနှောလျက်ရှိ၏။တဘက်နှာ
၉ ထားလှန်၍ မလှန်သောရန့်ပြားဖြစ်၏။-သူမသိမ
မှတ်ဘဲ တကျွန်းတနိုင်ငံ သား တို့ သည် သူ၏ခွန်
အားကို စားကြ ပြီ။ ကိုယ် မသိ မမှတ်ဘဲ ခေါင်း
၁၀ ပေါ်မှာဖြူသောဆံပင်အနည်းအပြားရှိပြီ။-ဣသရေ
လ အမျိုး၏ မာန သည် သူ မျက်မှောက်၌ မှိန်ရှု
ခြင်းသို့ရောက်သော်လည်း၊အမျိုးသားတို့သည်

ကိုယ်ဘုရားသခင် ထာဝရဘုရား ထံတော်သို့ မ
ပြန်မလာကြ။ အမှုရောက်သော်လည်း ဘုရား
ကိုမရှာကြ။
၁၁ ဧဖရိမ်သည် ဉာဏ်မရှိ၊ မိုက်သော ငှက်နှင့်
တူ၏။ အဲဂုတ္တုပြည်ကိုတစ်ခေါ်တတ်၏။ အာရှုရိ
၁၂ ပြည်သို့ ပြေး တတ်၏။- သွား လေရာရာတွင် ငါ
ပိုက်နှင့် သူတို့ကို ငါဖုံးမိမည်။ မိုဃ်းကောင်း
ကင်ငှက်ကိုကဲ့သို့ မြေသို့နှိမ့်ချမည်။ သူတို့စည်း
၁၃ ဝေးရာ၌ကြား သည်အတိုင်း ငါဆုံးမမည်။-သူတို့
သည် ငါထံမှ ထွက်၍ လည်သော ကြောင့် အမင်္ဂ
လာရှိကြ၏။ ငါကိုပြစ်မှားသောကြောင့် ဖျက်ဆီး
ခြင်းရာဖြစ်ကြ၏။ သူတို့ကိုငါရွေးနှုတ်သော်လည်း၊
၁၄ ငါ့တဘက်၌ မုသာ စကားကို ပြောကြ၏။- သူတို့
သည် အိပ်ရာပေါ်မှာ မြည်တမ်း သော် လည်း၊
စေတနာစိတ်နှင့်ငါ့ကိုမအော်ဟစ်ကြ။ ဆန်စပါး၊
စပျစ်ရည်ကို ရခြင်းငှါ စည်းဝေး၍ ငါ့ကို ပုန်ကန်
၁၅ ကြ၏။- ငါသည်ဆုံးမသော်လည်း၊ သူတို့ကို ခိုင်ခံ့စေ
သော်လည်း၊ ငါ့တဘက်၌ မကောင်း သော အကြံကို
၁၆ ကြံစည်ကြ၏။-အကျိုးနည်းရှိကြ၏။ လိမ်တတ်
သော လေး ကဲ့သို့ ဖြစ်ကြ၏။ မင်းတို့ သည် စော်
ကားသောကြောင့်ထားဖြင့်သေ၍၊ အဲဂုတ္တုပြည်
သားတို့၏ကဲ့ရဲ့ခြင်းကိုခံရကြလိမ့်မည်။

၈

၁ တံပိုး မှုတ်လော့။ ရန်သူသည် ရွှေလင်းတကဲ့
သို့ ထာဝရဘုရား၏အိမ်တော်သို့ လာလိမ့်မည်။
အကြောင်းမူကား၊ သူတို့သည် ငါ့ပဋိညာဉ် ကို
၂ ဖျက်၍ငါ့တရားကို လွန်ကျူးကြပြီ။- သို့ရာတွင်၊
သူတို့က၊ အကျွန်ုပ်တို့၏ ဘုရားသခင်၊ အကျွန်ုပ်
တို့သည် ဣသရေလအမျိုးဖြစ်၍ကိုယ်တော်ကို
သိကြပါ၏ဟု၊ ငါ့အား ဟစ်ကြော်ကြသည် တ
၃ ကား။-ဣသရေလအမျိုးသည်ကောင်းသောအ
ရာကိုစွန့်ပစ်သောကြောင့်၊ရန်သူညှဉ်းဆဲခြင်း
၄ ကိုခံရလိမ့်မည်။- သူတို့သည်ငါ၏အခွင့်မရှိဘဲ
ကိုယ် အလို အလျောက် ရှင် ဘုရင် တို့ ကို ချီး
မြှောက်ကြပြီ။ငါမသိရဘဲမင်းတို့ကိုခန့်ထားကြ
ပြီ။ ကိုယ်အကျိုးနည်းစေခြင်းငှါ၊ ကိုယ် ရွှေ ငွေ
၅ နှင့်ကိုယ်အဖို့ရုပ်တုများကိုလုပ်ကြပြီ။-အိုရှမာ
ရိ၊သင်၏နွားသငယ်ကိုစွန့်ပစ်လော့။ကိုးကွယ်
သောသူများကို ငါအမျက်ထွက်၏။ သူတို့သည်
အဘယ်မျှကာလပတ်လုံး သန့်ရှင်းခြင်း တရား
၆ ကို မရှိနိုင်ဘဲ နေရကြလိမ့်မည်နည်း။- ထိုနွား
သငယ်သည်ဣသရေလအမျိုး၏ကြံစည်၍ဖြစ်၏။
လက်သမား လုပ်သောကြောင့် ဘုရား မဟုတ်။
အကယ်စင်စစ် ရှမာရိ နွားသငယ်သည် အပိုင်း
ပိုင်းကျိုးပဲ့ရလိမ့်မည်။
၇ လေမျိုးစေ့ကိုကြဲ၍လေဘွေစပါးကိုရိတ်ရကြ
လိမ့်မည်။စပါးပင်မရှိရ။ အနှံ ထဲက ဆန်ညက်မ
ထွက်ရ။ထွက်သော်လည်း၊တကျွန်းတနိုင်ငံသား
၈ တို့သည် စားကြလိမ့်မည်။- ဣသရေလ အမျိုး
သည်တိမ်မြုပ်လေပြီ။ အဘယ်သူမျှမနှစ်သက်
သောတန်ဆာကဲ့သို့ တပါးအမျိုးသားတို့တွင်ရှိ
၉ ရလိမ့်မည်။- အာရှုရိပြည်သို့အလိုလိုသွားလေ
ပြီတကား။ ဧဖရိမ် သည် ကိုယ် အဖို့ တကောင်
တည်းနေသောမြည်းရိုင်းကဲ့သို့ဖြစ်၍၊ ရည်းစားတို့
၁၀ အားဆုချလေပြီ။-တပါးအမျိုးသားတို့အားဆု
ချ သော်လည်း၊ ချက်ချင်း လူများကို ငါစုဝေးစေ
မည်။ မကြာမမြင့်မှီ ရှင်ဘုရင်နှင့် မင်းများ တင်
သောဝန်ကို ပင်ပန်းစွာ ထမ်းရ ကြ လိမ့်မည်။-
၁၁ ဧဖရိမ်သည်များစွာသောယဇ်ပလ္လင်တို့ကို အ
ပြစ်အဖို့လုပ်သောကြောင့်၊ယဇ်ပလ္လင်တို့ကိုသူ
၁၂ ၏အပြစ်ဟူ၍မှတ်ရလိမ့်မည်။- ငါ့တရား၏ ထူး
ဆန်းသောအရာတို့ကိုသူ့အဖို့ငါရေးထားပြီ။ သို့
သော်လည်း၊ ရိုင်းသောအရာဟူ၍သူသည်မှတ်
၁၃ လေပြီတကား။- ငါနှင့်ဆိုင်သော ပူဇော်သကာ
တို့ကို ယဇ် ပူဇော် သော သူတို့ သည် ပူဇော်၍
ကိုယ်တိုင်စားကြ၏။ ထာဝရဘုရားသည်သူတို့
ကိုလက်ခံတော်မမူ။ သူတို့ အပြစ်များကို ချက်
ချင်း အောင်းမေ့၍ စစ်ကြော တော်မူသော အခါ
ဖြင့်၊ သူတို့သည်အဲဂုတ္တုပြည်သို့ ပြန်သွားရကြ
၁၄ လိမ့်မည်။-ဣသရေလသည်သူ့ကိုဖန်ဆင်းတော်
မူသောသခင်ကိုမေ့လျော့၍ ဘုံဗိမာန် များကို
တည်ဆောက် တတ်၏။ ယုဒ သည်လည်း ခိုင်ခံ့
သောမြို့တို့ကို များပြား စေတတ်၏။ သို့ရာတွင်၊
ငါသည် ထိုမြို့များတို့ကို မီးရှို့၍ ဘုံဗိမာန်များ
တို့ကိုမီးလောင်ရလိမ့်မည်။

၉

၁ အိုဣသရေလအမျိုး၊တပါးအမျိုးသားကဲ့သို့
ဝမ်းမြောက် ရွှင်မြူးသော စိတ် ရှိ၍ မ ခုန် နှင့်။
ကိုယ်ဘုရားသခင်၌မဆည်းကပ်၊ အခြားသော
ဘုရားနှင့်မှားယွင်းပြီ။ကောက်နယ်တလင်းရှိသ
၂ မျှတို့၌မှားယွင်းခကိုနှစ်သက်တတ်၏။-ကောက်
နယ်တလင်းအားဖြင့်အသက်မမွေးရ။စပျစ်သီး
နယ်ရာ ကျင်း အားဖြင့်လည်း အသက် မမွေးရ။
စပျစ်ရည်သစ်လည်းသူတို့မျှော်လင့်သည်အတိုင်း



 

၃ မထွက်ရ။- ဧဖရိမ်အမျိုးသားတို့သည် ထာဝရ
ဘုရား၏ မြေတော်၌မနေရဘဲ အဲဂုတ္တုပြည်သို့
ပြန်သွား၍၊ အာရှုရိပြည်၌မစင်ကြယ်သောအ
၄ စာကိုစားရကြမည်။-စပျစ်ရည်သွန်းလောင်းရာ
ပူဇော်သကာကို ထာဝရဘုရားအား မပြုရကြ။
ပူဇော်သောယဇ်တို့ကိုနှစ်သက်တော်မမူရ။ ထို
ယဇ်အသားသည် မသာလိုက်၍ ငိုကြွေး မြည်
တမ်းသောသူတို့၏အစာကဲ့သို့ဖြစ်၍၊ စားသော
သူအပေါင်းတို့သည်ညစ်ညူးခြင်းသို့ရောက်ကြ
လိမ့်မည်။ သူတို့အစာကို ကိုယ်တိုင်စားကြစေ။
ထာဝရ ဘုရား၏ အိမ်တော် ထဲသို့ မသွင်း စေ
၅ နှင့်။- ဓမ္မပွဲနေ့၊ ထာဝရဘုရားအဖို့ဆောင်သော
ပွဲနေ့တို့၌ သင်တို့ သည် အဘယ်သို့ ပြုကြ လိမ့်
၆ မည်နည်း။- ဖျက်ဆီးရာထဲက သူတို့သည် ထွက်
သွားကြပြီ။ အဲဂုတ္တုပြည်၌ စု၍ မင် ဖိမြို့၌ သင်း
ဂြိုဟ်ကြလိမ့်မည်။ ငွေတန်ဆာဆင်သော နေရာ
ဘုံမိတ်မှန် များကို ဆူးအမျိုးမျိုးတို့သည် ဖွမ်း
၇ မိုးကြလိမ့်မည်။-စစ်ကြောရသောအချိန်ရောက်
လေပြီ။ အပြစ်ပေးရသောအချိန်ရောက်လေပြီ။
ဣသရေလအမျိုးသိရလိမ့်မည်။ ပရောဖက်သည်
အမိုက်ဖြစ်၏။ ဝိညာဉ်ဆုကျေးဇူးကိုခံသောသူ
သည် အရူးဖြစ်၏။ သင်၌ အပြစ်ကြီး သည် အ
၈ တိုင်းကြီးစွာသောဖျက်ဆီးခြင်းကိုခံရ၏။- ဧဖ
ရိမ် ကင်းစောင့်သည် မိမိ ဘုရား ထက်မှာ နေ၏။
ပရောဖက် သည် ပြုလေသမျှ တို့၌ မုဆိုး ကျော့
ကွင်းဖြစ်၏။ သူ၏ ဘုရားအိမ်တွင် ဒေါသပြုသော
၉ သူဖြစ်၏။- ဂိဗာမြို့ထက်ထက်ကဲ့သို့သူတို့သည်
ကိုယ်ကိုအလွန်ညစ်ညူးစေကြပြီ။ သူတို့အပြစ်
ကိုအောက်မေ့၍ဒုစရိုက်များကို စစ်ကြောတော်
မူမည်။
၁၀ တောထဲ၌စပျစ်သီးကဲ့သို့ဣသရေလအမျိုးကိုငါ
တွေ့၏။သီးစသောသင်္ဘောသဖန်းပင်၌အဦးဆုံး
မှည့်သော သင်္ဘောသဖန်းသီးကဲ့သို့ သင်တို့ဘိုး
ဘေးများကိုငါမြင်၏။ သူတို့သည်ကိုယ်အလိုအ
လျောက် ဗာလပေဂုရ ဘုရားထံသို့ သွား၍၊ ထို
ရှက်ဖွယ်သောအရာအဖို့ကိုယ်ကိုအပ်နှံသဖြင့်
တပ်မက်သည့်အတိုင်း စက်ဆုပ် ရွံရှာဖွယ်သော
၁၁ အမှုတို့ကို ပြုကြ၏။- ဧဖရိမ်၏ ဘုန်းသည်ငှက်
ကဲ့သို့ ပျံသွားလိမ့်မည်။ သား ဖွားခြင်း၊ ကိုယ်
ဝန်ဆောင်ခြင်း၊ ပဋိသန္ဓေယူခြင်းမရှိရ။- သား
သမီးတို့ကိုမွေးကျွေးသော်လည်း၊တယောက်ကို
မျှမကျန်စေခြင်းငှါ ငါလုယူမည်။ အကယ်၍ သူ
တို့ကိုငါစွန့်ပြစ်သောအခါ အမင်္ဂလာရှိကြလိမ့်
၁၃ မည်။- ဧဖရိမ်သည်တုရုမြို့ကဲ့သို့ ဖြိမ်ဝပ်ရာအ
ရပ်၌ တည်ထန်ရှိသော်လည်း၊ မိမိသားသမီးတို့
၁၄ ကိုလူသတ်ထက်သို့ အပ်ရလိမ့်မည်။- အိုထာ
ဝရ ဘုရား၊ ပေး သနား တော်မူပါ။ အဘယ်သို့
ပေးတော်မူရမည်နည်း။ ကိုယ်ဝန်မဆောင်သော
ဝမ်း၊ နို့မထွက်သောသားမြတ်ကိုပေးတော်မူပါ။-
၁၅ ဂိလဂါလမြို့၌သူတို့ပြုသမျှသောဒုစရိုက်ရှိ၍၊ထို
အရပ်၌သူတို့ကိုငါမုန်း၏။ သူတို့ ဒုစရိုက်အပြစ်
ကြောင့်ငှါအိမ်မှ ငါနှင်ထုတ်မည်။ နောက်တဖန်
သူတို့ကိုမချစ်။ သူတို့မင်းအပေါင်းတို့သည် ပုန်
၁၆ ကန်တတ်သောသူဖြစ်ကြ၏။- ဧဖရိမ်သည် အ
ထိအခိုက် ခံရသောကြောင့်၊ အမြစ် သွေ့ခြောက်
လျက်ရှိ၍ အသီးကိုမသီးနိုင်ရာ။ သားဖွားသော်
လည်း၊ အချစ်ဆုံးသောသားတို့ကို ငါသတ်မည်။-
၁၇ ဘုရားသခင်၏ စကား တော် ကို နား မထောင်
သောကြောင့် စွန့်ပြစ်တော်မူ၍၊ သူတို့သည် တ
ပါးအမျိုးသားတို့တွင် အရပ်ရပ်သို့ ဖျည့်လည်
ရကြမည်။

၁၀

၁ ဣသရေလသည်အသီးများစွာသီးသော စပျစ်
နွယ်ပင် ဖြစ် ၏။ ကိုယ် အလို အလျောက် သီး
တတ်၏။ အသီးတိုးပွားသည်အတိုင်းအမျိုးသား
တို့သည်ယဇ်ပလ္လင်တို့ကိုများပြားစေကြ၏။ သူ
တို့ပြည်ကောင်းသည်အတိုင်းကောင်းသောရုပ်
၂ တုဆင်းတုတို့ကိုလုပ်ကြသည်တကား။- သူတို့
၌စိတ်နှစ်ခွရှိ၏။ ချက်ချင်းအပြစ်ဒဏ်ကိုခံရကြ
မည်။သူတို့ယဇ်ပလ္လင်တို့ကိုကိုယ်တော်တိုင်ဖြို
ချ၍၊ ရုပ်တုဆင်းတုတို့ကိုလည်း ဖျက်ဆီးတော်
၃ မူမည်။-ငါတို့သည်ထာဝရဘုရားကိုမကြောက်
ရွံ့သောကြောင့် ရှင်ဘုရင်မရှိ။ ရှင်ဘုရင်ရှိသော်
လည်း၊ငါတို့အဖို့အဘယ်သို့ပြုနိုင်မည်နည်း။ထု
၄ ချက်ချင်း ဆိုရ ကြ မည်။- သူတို့ ကျိန် ဆို သော
စကားသည် စကားသက် သက် ဖြစ် ၍၊ မိဿ
ဟာယ ဖွဲ့သောအခါ မုသာစကားကိုသာ ပြော
တတ်ကြ၏။ တရား စီရင်ခြင်း အမှု သည် လယ်
ကန်စင်းရိုး ပေါ်မှာ ထင်းခါး ပင်ကဲ့သို့ ပေါက်ရ
၅ လိမ့်မည်။- ရှမာရိမြို့သားတို့သည်ဗေသဝင်နွား
သငယ် အဖို့ ကြောက်ကြ လိမ့်မည်။ ထိုနွားသ
ငယ်၏ဘုန်းအတွက်သူ၏တကာတို့သည်ငိုကြွေး
မြည် တမ်း၍၊ ယဇ်ပရောဟိတ် တို့ သည် တုန်
လှုပ်ကြလိမ့်မည်။ အကြောင်းမူကား၊ ရန်သူတို့

၆ သည်ထိုဘုန်းကိုထုတ်ယူ၍၊- နွားသငယ်နှင့်အတူ
အာရှုရိပြည်သို့ယူသွားပြီးလျှင်၊ ရှင်ဘုရင်ယာ
ရက်အား ဆက်ရကြလိမ့်မည်။ ဧဖရိမ်သည်အ
သရေပျက်၍ ဣသရေလသည် မိမိအကြံအစည်
၇ အားဖြင့်ရှက်ကြောက်ရလိမ့်မည်။- ရှမာရိထပို
ပျက်ရ၏။ ရှမာရိ ရှင်ဘုရင် သည် ရေမြှုပ် ထက်
၈ ထက်ဖြစ်၏။- ဣသရေလ ပြစ်မှားရာ အာဝင်မြို့
ကုန်းတို့သည်ပြိုကျ၍၊ ဆူးပင်အမျိုးမျိုးတို့သည်
သူတို့ယဇ်ပလ္လင်များကို လွှမ်းမိုးကြလိမ့်မည်။
မြို့သားတို့ကလည်း၊ အိုတောင်များတို့၊ငါတို့ကို
ဖုံးအုပ်ကြပါ။ အိုကုန်းများတို့၊ ငါတို့အပေါ်၌
ကျကြပါဟုခေါ်ကြလိမ့်မည်။
၉ ဂိဗာမြို့ ထက်ထက်၌ အပြစ် ကြီးသည် ထက်
ဣသရေလသည်အပြစ်သာ၍ကြီး၏။ထိုမြို့၌ရပ်
နေကြ၏။ဂိဗာမြို့၌အဓမ္မလူတို့ကိုစစ်တိုက်သော
၁၀ အခါမရှုံးကြ။-ငါသည်ကိုယ်အလိုအလျောက်
သူတို့ကိုဆုံးမမည်။ သူတို့ အပြစ်နှစ်ပါး ကြောင့်
ချည်ထားလျက်ရှိသောအခါ၊ လူတို့တစက်၌လူ
၁၁ များ စည်းဝေး ရကြ လိမ့်မည်။- ဧဖရိမ် သည်
ယဉ်၍စပါးကို နင်းချင်သောနွားမပျိုဖြစ်သော်
လည်း၊ငါသည်ထမ်းဘိုးကိုထမ်းစေသဖြင့်၊ဧဖ
ရိမ်သည် ကခြင်းကိုခံ၍၊ ယုဒသည်ထွန်လျက်၊
ယာကုပ်သည်လည်းမြေစိုင်ကို ခွဲလျက်ရှိရလိမ့်
၁၂ မည်။- ကိုယ်အဖို့ဖြောင့်မတ်ခြင်းမျိုးစေ့ကိုကြဲ
၍၊ ကရုဏာတော်အသီးအနှံ ကိုရိတ်ကြလော့။
မထွန်သေး သော လယ်ကို ထွန်ကြလော့။ ထာ
ဝရ ဘုရား သည် ကြွ လာ၍၊ သင်တို့ အပေါ် သို့
ဖြောင့်မတ်ခြင်းမိုဃ်းကို ရွာစေတော် မမူမှီတိုင်
အောင်၊ ကိုယ်တော်ကိုရှာရသော အချိန်ရောက်
၁၃ လေပြီ။- သင်တို့သည် ဒုစရိုက် မျိုးစေ့ကို ကြဲလို
၍ ထယ်ထွန်သောကြောင့်၊ အပြစ်စပါးကို ရိတ်
ရကြ၏။ မုသာ အသီး အနှံကို စားရ ကြ၏။ အ
ကြောင်းမူကား၊ ကိုယ်ကြံစည် ပြုမူခြင်းကိုရှင်၊
ကိုယ်၌ များစွာ သော သူရဲ တို့ကို ၍င် ကိုးစား
၁၄ တတ်၏။- ထိုကြောင့်၊သင်၏လူတို့သည်ရုန်းရင်း
ခတ်ကြလိမ့်မည်။ ရှာလမန်မင်းသည် ဗေသာ
ဗေလမြို့ကို စစ်တိုက်သောအခါ ဖျက်ဆီး သကဲ့
သို့၊ သင်၏ခဲတိုက်ရှိသမျှတို့သည် ပျက်စီးရကြ
လိမ့်မည်။အမိသည်သားတို့နှင့်အတူမြေပေါ်
၁၅ မှာ ဆောင့်ပွပ်ခြင်းကို ခံရလိမ့်မည်။- ထိုသို့ဗေ
သလသည် သင်တို့ ဒုစရိုက် အပြစ်များ ကြောင့်
သင်တို့၌ ပြုလိမ့်မည်။ နံနက် အချိန် သည် လွန်

တတ်သကဲ့သို့၊ ဣသရေလရှင်ဘုရင်သည် ရှင်း
ရှင်းကွယ်ပျောက်ရလိမ့်မည်။

၁၁

၁ ဣသရေလသည် အသက်ငယ်သောအခါ ငါ
သည်ချစ်၍ သားကို အဲဂုတ္တုပြည်မှခေါ်ခဲ့ပြီ။-
၂ သူတို့ကို ခေါ်သောသူတို့ထံမှ ထွက်သွားကြ၏။
ဗာလဘုရားတို့အား ယဇ်ပူဇော်၍ ရုပ်တုဆင်း
၃ တုတို့အားနံ့သာပေါင်းကိုမီးရှို့ကြ၏။- ငါသည်
သွားတတ်သော အတတ်ကို ဧဖရိမ်အား ထက်
ဆွဲ၍ သွန်သင်၏။သို့သော်လည်း၊ငါစောင့်မခြင်း
၄ ကျေးဇူးကို သူသည် မသိဘဲ နေ၏။- လူ၏ဆွဲ
တတ်သော ကြိုးတည်းဟူသော မေတ္တာကြိုးနှင့်
ငါဆွဲငင်၏။ ပါးရိုးအနားသို့ ထမ်းဘိုးကိုရွှေ၍
၅ ဖြည်းညှင်းစွာကျွေး၏။- အထံတော်သို့ မပြန်မ
လာဟုသူသည်ငြင်းသောကြောင့်၊အဲဂုတ္တုပြည်
သို့ပြန်၍ မသွားရ။ အာရှုရိမင်းသည် သူတို့ကို
၆ အုပ်စိုးရလိမ့်မည်။-ထားဘေးသည်သူနေရာမြို့
တို့အပေါ်သို့ ရောက်၍မင်းတို့ကို ဖျက်ဆီးလိမ့်
မည်။ သူတို့ကြံစည်ခြင်းအားဖြင့်ပင် သုတ်သင်
၇ ပယ်ရှင်းလိမ့်မည်။- ငါ၏လူတို့သည် ငါ့ထံမှထွဲ
ဖြို ထွဲကြ၏။ အမြင့်ဆုံးသော ဘုရား ထံသို့ခေါ်
သော် လည်း၊ ထို ဘုရား ကို အထယ် သူမျှ မချီ
မြှောက်လို။
၈ အို ဧဖရိမ်၊ ငါသည် သင့်ကို အဘယ်သို့ စွန့်
နိုင်မည်နည်း။ အိုဣသရေလ၊ သင့်ကို အဘယ်
သို့ အပ်နှံ နိုင်မည်နည်း။ သင့်ကို အာဒမာမြို့ကဲ့
သို့အဘယ်သို့ ဖြစ်စေ နိုင်မည်နည်း။ ဇေဘိုင်မြို့
အရာ၌ အဘယ်သို့ ခန့်ထား နိုင်မည်နည်း။ ငါ
သည် နှစ်လုံးပြောင်းလဲ၍ အထွန်ကြင်နာသော
၉ စိတ်ရှိ၏။-ပြင်းစွာအမျက်ထွက်သည်အတိုင်းမ
ပြုလို။ ဧဖရိမ်ကို အထပ်ထပ် မဖျက်ဆီးလို။ ငါ
သည်လူမဟုတ်၊ဘုရားသခင် ဖြစ်၏။ မြို့ထဲမှာနေ
သောမြို့သားမဟုတ်သော်လည်း၊သင်တို့တွင်နေ
၁၀ ၍သန့်ရှင်းသောဘုရားဖြစ်၏။- သူတို့သည်ထာ
ဝရဘုရား၏နောက်တော်သို့ လိုက်ကြလိမ့်မည်။
ခြင်္သေ့ကဲ့သို့ ဟောက် တော် မူမည်။ ဟောက်
တော်မူသောအခါ သားသမီးတို့သည် အနောက်
၁၁ မျက်နှာမှ အလျင်အမြန် ပြေးကြလိမ့်မည်။- စာ
ငှက်ကဲ့သို့အဲဂုတ္တုပြည်မှ၎င်း၊ ချိုးကဲ့သို့အာရှုရိ
ပြည်မှ၎င်း အလျင်အမြန်ပြေးကြ၍၊ သူတို့ကိုနေ
ရင်းအရပ်၌ ငါ နေရာ ချမည်ဟု၊ ထာဝရဘုရား
မိန့်တော်မူ၏။

၁၂ ဧဖရိမ်သည်မုသာစကားနှင့်၎င်း၊ ဣသရေလ
သည်လှည့်စားခြင်းနှင့်၎င်းငါ့ကိုဝန်းရံတတ်
၏၊ ယုဒသည်လည်းဘုရားသခင်ထံ၊ သန့်ရှင်း၍
သစ္စာစောင့်တော်မူသော ဘုရားသခင်ထံမှ ဖွဲ
၍လှည့်လည်တတ်၏၊

၁၂

၁ ဧဖရိမ်သည်လေကိုကျက်စားတတ်၏၊ အရှေ့
လေကိုလိုက်တတ်၏၊ နေ့တိုင်း မုသာစကား နှင့်
ပျက်စီးခြင်းအကြောင်းတို့ကို များပြားစေတတ်
၏၊ အာရှုရိလူတို့နှင့် မိဿဟာယဖွဲ့လျက် နှင့်
ပင်၊ အဲဂုတ္တုပြည်သို့ ဆီကိုယူသွားတတ်၏၊-
၂ ထာဝရဘုရားသည်ယုဒအမျိုးနှင့်လည်းတရား
တွေ့မှုရှိတော်မူ၏၊ ယာကုပ်၏အကျင့်တို့ကို စစ်
ကြော၍ သူပြုမူသည်နှင့် အညီအပြစ်ပေးတော်
၃ မူမည်၊- ယာကုပ်သည် အမိဝမ်း၌ အစ်ကို၏ဖ
နောင့်ကိုကိုင်၏၊ ခွန်အားကြီး၍ ဘုရားသခင်နှင့်
၄ ပြိုင်ဆော်၏၊- ကောင်းကင်တမန် နှင့် ပြိုင်၍ နိုင်
လေ၏၊ ငို၍တောင်းပန်နှင့်ပြီ၊ ကောင်းကင်ဗိုလ်
ခြေအရှင်ဘုရားသခင်ထာဝရဘုရားကိုဗေသလ
မြို့မှာဖူးတွေ့၍၊ ငါတို့အမှီပွာဗိတ်တော်ကိုခံလေ
၅ ၏၊-ထာဝရဘုရားတည်းဟူသောနာမသည်ထို
၆ ဘုရားသခင်၏ အွဲ့နာမတော်ဖြစ်၏၊- သို့ဖြစ်၍၊
သင်၏ ဘုရားသခင် ထံတော်သို့ ပြန်လာလော့၊
ကရုဏာတရားခြောင့်မတ်ခြင်းတရားကိုစောင့်
ရှောက်၍၊ သင်၏ဘုရားသခင်ကို အစဉ်မပြတ်
မျှော်လင့်လော့၊
၇ သူသည် ကုန်သည်ဖြစ်၏၊ စဉ်းလဲသော ချိန်
ခွင်ကိုကိုင်တတ်၏၊ သူတပါးကို ညှဉ်းဆဲခြင်း
၈ ၌ါအလိုရှိ၏၊- သို့ရာတွင်၊ ဧဖရိမ်က၊ ငါသည်ရ
တတ်၏၊ ဥစ္စာကိုသိုထားပြီ၊ ကြိုးစား၊ သမျှတို့
၌ အပြစ်ဟူသော လွန်ကျူးခြင်းကို ရှာ၍မတွေ့
၉ ရာဟုဆိုလိမ့်မည်၊-ငါထာဝရဘုရားသည်သင့်
ကိုအဲဂုတ္တုပြည်မှကယ်နုတ်သောသင်၏ဘုရား
သခင်ဖြစ်၏၊ ဓမ္မပွဲခံစည်တွင် နေတတ်သကဲ့သို့
၁၀ တဖန်တဲတို့၌နေစေမည်၊- ငါသည်ပရောဖက်တို့
၌ဗျာဒိတ်ပေးပြီ၊ များစွာသော ရူပါရုံတို့ကို ပြ
ပြီ၊ ပရောဖက် များ၏အားဖြင့် ပုံပမာတို့ကို ထား
၁၁ ပြီ၊- ဂိလဒ်ပြည်၌အပြစ်ရှိ၏၊ ပြည်သူပြည်သား
တို့သည် အကျိုးနည်း၊ ရှိကြပြီ၊ ဂိလဂါလ မြို့၌
နွားတို့ကို ယဇ်ပူဇော်၍၊ ယဇ်ပလ္လင် တို့သည်
ထွန်ကြောင်းတွင် ခြေအပုံပုံ ရှိသကဲ့သို့ များကြ
၁၂ ၏၊- ယာကုပ်သည် ရှုရိပြည်သို့ပြေး၏၊ ဣသရေ
လသည်မယားကိုရခြင်း၊ ငါ့အစေကျွန်ခံ၍ သိုး
၁၃ ကိုထိန်းရလေ၏၊- ထာဝရ ဘုရား သည် ပရော
ဖက်အားဖြင့်ဣသရေလအမျိုးကိုအဲဂုတ္တုပြည်
မှကယ်နုတ်၍၊ ပရောဖက်အားဖြင့်ထည်းစောင့်
၁၄ မတော်မူ၏၊- ဧဖရိမ်သည် အမျက်တော်ကို အ
လွန်နှိုးဆော်လေပြီ၊ ထို့ကြောင့်၊ လူအသက်ကို
သတ်သော အပြစ်သည် သူ၌ ရောက် လိမ့်မည်၊
သူကဲ့ရဲ့ခြင်းအပြစ်ကို သူ၏သခင်သည်ပြန်ပေး
လိမ့်မည်၊

၁၃

၁ ဧဖရိမ်သည် နှုတ်မြွက်သော အခါ သူတပါး
ကြောက်လန့်တတ်၏၊ သူသည်ဣသရေလအမျိုး
၌မြင့်မြတ်၏၊ နောက်တဖန် ဗာလ ဘုရား အား
၂ ဖြင့် ပြစ်မှား သောကြောင့် သေ၏၊- ယခုမှာအ
ထပ်ထပ် ပြစ်မှား၍ ကိုယ် ဉာဏ် ပညာ အား
ဖြင့် အရည်သွန်းသော ငွေရုပ်တု၊ ဆရာသမား
လုပ်တတ်သော ရုပ်တုဆင်းတုများကို ကိုယ်အ
ဖို့ လုပ်ကြ၏၊ လုပ်ပြီးမှ ယဇ် ပူဇော် သော သူ
သည်နွားသငယ်ကို နမ်းစေဟု ဆိုတတ်ကြ၏၊-
၃ ထို့ကြောင့်၊ သူတို့သည် နံနက်မိုဃ်းတိမ်ကဲ့သို့
၎င်း၊ စောစောကွယ်ပျောက်တတ်သောနှင်းကဲ့သို့
၎င်း၊ ကောက်နယ်တလင်းမှ လေတွေ့လိုက်သွား
သော ဖွဲကဲ့သို့၎င်း၊ မီးခိုးထဲက ထွက်သောမီးခိုးကဲ့
၄ သို့၎င်းဖြစ်ရကြလိမ့်မည်၊-သို့ရာတွင်၊ ငါထာဝရ
ဘုရားသည် သင့်ကို အဲဂုတ္တုပြည်မှ ကယ်နုတ်
သော သင်၏ ဘုရားသခင်ဖြစ်၏၊ ငါမှတပါး အ
ခြားသော ဘုရားသခင်ကို သင် မသိပြီ၊ ငါမှတ
၅ ပါးကယ်တင်နိုင်သော သခင်မရှိ၊- အလွန်ခြေ
ခြောက်သော အရပ်တည်းဟူသော တော၌ပင်
သင့်ကိုငါသိပြီ၊ ကျက်စားရာအရပ်၌ဝဝပြည့်စွာ
၆ စားရကြ၏၊- ဝသောအခါ ဝါကြွားသောစိတ်ရှိ
၍ ငါ့ကို မေ့လျော့ကြ၏၊- ထို့ကြောင့်၊ သူတို့၌ ငါ
၇ သည်ခြင်္သေ့ကဲ့သို့ဖြစ်မည်၊ ထမ်းနားမှာချောင်း
သော ကျားသစ်ကဲ့သို့ သူတို့ကို ချောင်း မြောင်း
၈ မည်၊- သားပျောက်သောဝံမကဲ့သို့ သူတို့ကိုငါ
ဆီးကြို၍၊ သူတို့ နှစ် လုံး၌ ရုံးသော အမြှေး ကို
ဆုတ်ဖဲ့မည်၊ ခြင်္သေ့မကဲ့သို့ တွေ့သော အရပ်၌
ပင်ငါကိုက်စားမည်၊ တောသားရဲဖြစ်၍အပိုင်း
ပိုင်းဆွဲဖြတ်မည်၊
၉ ဪ ဣသရေလ၊ သင့်ကိုကယ်တင်နိုင်သောအ
ရှင်ကိုသင်သည်ဆန့်ကျင်ဘက်ပြုသောကြောင့်
၁၀ အကျိုးနည်းရှိ၏၊- သင်၏ ရှင်ဘုရင် အဘယ် မှာ

အယ်မှာ ရှိသနည်း။ သင့်နေရာ မြို့ရှိသမျှ ထို့၌
ကယ်တင်ပါစေသော၊ သင်၏တရား သူကြီး တို့
၁၁ သည် အထယ်မှာရှိကြသနည်း။- ရှင်ဘုရင်နှင့်
မင်းများကိုပေးပါဟုသင်တောင်းသောကြောင့်၊
ငါ အမျက် ထွက်၍ ရှင် ဘုရင်ကို ပေးပြီ၊ တဖန်
ငြင်း ငှာ အ မျက် ထွက် ၍ ရှင် ဘုရင် ကို ပယ်
ရှားပြီ၊
၁၂ ဧဖရိမ်ပြုသောဒုစရိုက်ကို ငါထုပ်ထား၍သူ
၁၃ ၏အပြစ်ကိုသိုမှီးပြီ၊-သူသည်သားဖွားသောမိန္မ
ကဲ့သို့ဝေဒနာကို ခံရမြန်နိုးပြီ၊ မိုက်သောအမျိုး
သားဖြစ်၏၊သားဖွားရာဝမ်း၌ကြာမြင့်စွာနေ
ပါသည်တကား။
၁၄ သူတို့ကိုမရဏာနိုင်ငံတန်ခိုးမှငါကယ်လွှတ်
မည်၊ သေမင်းထက်မှထည်းရွေးမည်၊ ဪ သေ
မင်း၊သင့်ကိုကာထနာစွဲစေမည်၊ ဪမရဏာနိုင်
ငံ၊သင်၌ဖျက်ဆီးသောဘေးကို ရောက်စေမည်၊
နောင်တရမည်အကြောင်းကိုပမာဏမရှိ၊
၁၅ မိမိညီအစ်ကို တို့တွင်အသီးများစွာ သီးတတ်
သော်လည်း၊ အရှေ့လေ လာလိမ့်မည်၊ ထာဝရ
ဘုရား၏ လေသည် တောမှ လာ၍ သူ၏ စမ်းရေ
တွင်းကိုခန်းခြောက်စေသဖြင့်ရေပြတ်လိမ့်မည်၊
အလှာတိုက်၌ရှိသမျှသောတန်ဆာအကောင်း
၁၆ အမြတ်တို့ကို ရန်သူ လုယူလိမ့်မည်၊- ရှမာရိမြို့
သည်မိမိဘုရားသခင်ကို ပုန်ကန်သောကြောင့်
ပျက်စီးလိမ့်မည်၊ မြို့သားတို့သည် ထားဖြင့်ထိ
၍သေကြလိမ့်မည်၊သူငယ်တို့သည် မြေပေါ်မှာ
ဆောင့်ပွင့်ခြင်းကိုငင်၊ ကိုယ်ဝန် ဆောင် သော
မိန္မတို့သည်ဝမ်းခွဲခြင်းကိုငင်ခံရကြလိမ့်မည်၊

၁၄

၁ ဪ ဣသရေလ၊ သင်သည် ကိုယ်ပြုသောဒုစရိုက်
အပြစ် အားဖြင့် အကျိုး နည်း ရှိ သောကြောင့်
သင်၏ ဘုရားသခင် ထာဝရ ဘုရား ထံတော်သို့
၂ ပြန်လော့၊- ပဌနာစကားကို ကျင်ဆင်၍ထာဝရ
ဘုရားထံတော်သို့ပြန်လျက်၊ အကျွန်ုပ်တို့၌ ရှိသ
မျှသော အပြစ်တို့ကိုပယ်ရှင်းတော်မူပါ၊ ကျေး
ဇူးပြု၍ ထက်ခံတော်မူပါ၊ အကျွန်ုပ် တို့ သည်
ကိုယ်နှုတ် ခမ်းတည်းဟူသော နွားသငယ်တို့
၃ ကိုပူဇော်ပါမည်။- အာရှုရိမင်းသည်အကျွန်ုပ်
တို့ကို မကယ်တင်ရ၊ အကျွန်ုပ်တို့သည် မြင်းစီး
သူရဲ မလုပ်ပါ၊ ကိုယ်လက်ဖြင့် လုပ်သောအရာ
တို့အားကိုယ်တော်တို့သည် အကျွန်ုပ်တို့၏ဘုရား
သခင် ဖြစ် ပါ၏ ဟုနောက် တ ဖန် မ ဆို ပါ၊ အ
ကြောင်းမူကား၊မိဘမရှိသောသူတို့သည်ကိုယ်
တော်ထံ၌ ကရုဏာကျေးဇူးကို ခံတတ်ကြပါ၏
ဟုလျှောက်ကြလော့။
၄ ငါသည်အရှက်ပြေသောကြောင့် သူတို့ဖောက်
ပြန်ခြင်းကို ပြုပြင်မည်၊ ကိုယ်အလို အလျောက်
၅ ချစ်မည်။- ငါသည် နှင်းကဲ့သို့ ဣသရေလ အ
ပေါ်မှာ နေမည်၊ သူသည် နှင်းပွင့်ကဲ့သို့ ပွင့်လိမ့်
မည်၊ လေဗနုန်တောကဲ့သို့ အမြစ်စွဲလိမ့်မည်။-
၆ အညွန့်တို့သည် ပြန့်ပွား၍၊ သံလွင်ပင်ကဲ့သို့အ
သရေတင့်တယ်လိမ့်မည်၊လေဗနုန်တောကဲ့သို့
မွှေးကြိုင်လိမ့်မည်၊
၇ ထို အပင်၏ အရိပ် အောက် ၌ နေ သော သူတို့
သည် အသစ် ပြုပြင် ခြင်း ရှိ၍ စပါး ကို ပြုစုကြ
လိမ့်မည်၊ စပျစ်နွယ်ပင်ကဲ့သို့ တိုးပွား၍လေဗ
၈ နုန်စပျစ်ရည်ကဲ့သို့ ကျော်စောကြလိမ့်မည်။- ငါ
သည် နောက်တဖန်ရုပ်တုဆင်းတုတို့နှင့်အထယ်
သို့ ဆိုင် ရသနည်း ဟု၊ ဧဖရိမ် သည် ပြော လိမ့်
မည်၊ သူ၏ စကားကိုလည်း ငါနားထောင်၍ သူ
ကို ကြည့်ရှုမည်၊ မိမ်းသော ထင်းရှူးပင်ကဲ့သို့
ဖြစ်၍၊ သင်သည် ငါ့ကျေးဇူးကြောင့် အသီးနှင့်
၉ ပြည့်စုံလိမ့်မည်။- အထယ်သူသည် ပညာရှိသ
နည်း။ ထို သူသည် ဤအရာတို့ကို နားလည်လိမ့်
မည်၊အထယ်သူသည်ဉာဏ်ကောင်းသနည်း။
ထိုသူသည် ဤ အရာတို့ကို သိရလိမ့်မည်၊ ထာ
ဝရ ဘုရား၏ လမ်းတော်တို့သည် ဖြောင့် ကြ၏၊
ဖြောင့်မတ်သောသူတို့သည်လိုက်ကြလိမ့်မည်၊
အပြစ်ရှိ သူ တို့မူကား၊ ထိုလမ်း၌ ထိမိ၍ လဲကြ
လိမ့်မည်၊

ပရောဖက်ဟောရှေမိရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

# ယောလအနာဂတ္တိကျမ်း။

## JOEL.

၁

၁ ပေသွေလ်သားယောလသို့ရောက်လာသော
ထာဝရဘုရား၏နှုတ်ကပတ်တော်ဟူမူကား၊-
၂ အသက်ကြီးသောသူတို့၊ ကြားကြလော့၊ ပြည်
သူပြည်သားအပေါင်းတို့၊ နားထောင်ကြလော့၊
ဤသို့သော အမှုသည် သင်တို့ ထက်ထက်၌ ဖြစ်
ဘူးသလော၊ ဘိုးဘေးတို့ ထက်ထက် ၌ ဖြစ်ဘူး
၃ သလော၊-ကိုယ်သားတို့အားပြောကြလော့၊ သူ
တို့သည် သူတို့သား တို့အား၊ ပြောကြစေ၊ သူတို့
သားတို့သည်လည်း၊ ထတ်နှယ်သောအခြားသူ
၄ တို့အား ပြောကြစေ၊- ဂါဇံကျိုင်း ခြွင်း ထားသော
အရာကိုအရာသကျိုင်းစား၏၊အရာသကျိုင်းခြွင်း
ထားသော အရာကိုယာလက်ကျိုင်းစား၏၊ ယာ
လက်ကျိုင်း ခြွင်း ထားသော အရာကို ခါသိလ
၅ ကျိုင်းစား၏၊-သေသောက်ကြူး ထို့ နိုး၍ငိုကြွေး
ကြလော့၊ စပျစ်ရည်ကို သောက် ကြူးသော သူ
တို့၊ သင်တို့သောက်ရန်ရှိသော စပျစ်ရည်ပြတ်
၆ သောကြောင့် ငိုကြွေး မြည်တမ်းကြလော့၊- အ
ကြောင်း မူကား၊ အား ကြီး၍ မရေတွက် နိုင်
အောင်များပြားသောအမျိုးသည်ငါ့ပြည်ပေါ်သို့
တက်လာပြီ၊ထိုအမျိုး၏သွားသည်ခြင်္သေ့သွား
ကဲ့သို့ရင်း၊ထိသွားသည်လည်းခြင်္သေ့မထိသွား
၇ ကဲ့သို့ရင်ဖြစ်၏၊- ငါ့စပျစ်နွယ်ပင်ကို ဖျက်ဆီး၍
ငါ့သင်္ဘောသဖန်းပင်ကို ကျိုးပဲ့စေပြီ၊ သုတ်သင်
ပယ်ရှင်း၍ပြစ်လိုက်လေပြီ၊ အခက်အလက်တို့
သည်ဖြူကြ၏၊
၈ အသက်ငယ်စဉ် ထက်ထပ်သော ခင်ပွန်းအ
တွက်လျှော်တေအဝတ်ကို ဝတ်သော သတို့သမီး
၉ ကဲ့သို့ ငိုကြွေး မြည်တမ်းလော့၊- ဘောဇဉ်ပူ
ဇော်သကာနှင့် သွန်းလောင်းရာ ပူဇော် သကာ
သည်ထာဝရဘုရား၏ အိမ်တော်၌ပြတ်၏၊ ထာ
ဝရဘုရား၏ အမှုတော်စောင့် ယဇ်ပုရောဟိတ်
၁၀ တို့သည် ငိုကြွေးမြည်တမ်းကြ၏၊- လယ်သည်
ပျက်စီး၏၊ မြေသည် ညှိုးငယ်၏၊ စပါးထဉ်ပျက်၏၊
ချိုသောစပျစ်ရည်ကုန်ပြီ၊ ဆီလည်းလျော့ပြီ၊-
၁၁ ထယ်ထွန်သော သူတို့၊ ထယ်၌ရိတ်ရသော အ
သီးအနှံ ပျက်သောကြောင့်၊ ဂျုံစပါးနှင့်မုယော
စပါး အတွက် ရှက် ကြောက် ခြင်း ရှိကြလော့၊
စပျစ်ဥယျာဉ်ကိုပြုစုသောသူတို့၊မြည်တမ်းကြလော့၊-
၁၂ စပျစ်နွယ်ပင်သည် ညှိုးနွမ်း၏၊ သင်္ဘောသဖန်း
ပင်သည်းလျော့ခြောက်၏၊သလဲပင်၊ စွန်ပလွံပင်၊
ရှောက်ချိုပင်မှစ၍တောသစ်ပင်ရှိသမျှတို့သည်
ညှိုးနွမ်းကြ၏၊အကယ်စင်စစ်လူသားတို့၌ဝမ်း
မြောက်စရာအကြောင်းသည်လျော့ခြောက်၏။
၁၃ ယဇ်ပုရောဟိတ်တို့၊ လျှော်တေအဝတ်ကို
ဝတ်၍ငိုကြွေးကြလော့၊ ယဇ်ပလ္လင်တော်အမှု
စောင့်တို့၊ မြည်တမ်းကြလော့၊ငါ၏ဘုရားသခင်
အမှုတော်စောင့်တို့၊ လာကြ၊ လျှော်တေအဝတ်
ကို ဝတ်လျက် တညဉ့်လုံး အိပ်ကြလော့၊ အ
ကြောင်းမူကား၊ဘောဇဉ်ပူဇော်သကာ၊ သွန်း
လောင်းရာပူဇော်သကာကိုသင်တို့ဘုရားသခင်
၏ အိမ်တော်၌ မဆက်ကပ်ဘဲ နေကြပါပြီ ထ
၁၄ ကား၊-အစာရှောင်ရသောအချိန်ကိုခန့်ထားကြ
လော့၊ဖြိုးဖြိုးတွေ့ချိန်ရသောအချိန်ကိုကျော်ညာ
ကြလော့၊ အသက် ကြီးသူမှစ၍ ပြည်သူ ပြည်
သားအပေါင်းတို့ကို သင်တို့ ဘုရားသခင် ထာ
ဝရ ဘုရား၏ အိမ်တော်၌ စည်းဝေး၍ ထာဝရ
၁၅ ဘုရားအား ဟစ်ကြော်ကြလော့၊- ထိုနေ့ရက်
ကြောင့်အမင်္ဂလာရှိ၏၊ ထာဝရဘုရား၏နေ့ရက်
နီးပြီ၊အနန္တတန်ခိုးရှင်ဖျက်ဆီးခြင်းအလားကဲ့သို့
၁၆ ရောက်လာလိမ့်မည်၊-ငါတို့စားစရာသည်ငါတို့
မျက်မှောက် ၌ ပြတ်သည် မဟုတ်လော၊ ငါ တို့
ဘုရားသခင်၏ အိမ်တော် ၌ ဝမ်းမြောက် ရွှင်
လန်းခြင်းအကြောင်းသည်၊ ပြတ်သည် မဟုတ်
၁၇ လော၊- မျိုးစေ့တို့သည် မြေစိုင်အောက်မှာဆွေး
ကြ၏၊စပါးပြတ်သောကြောင့်စပါးကျီတို့သည်
၁၈ ပျက်ကြ၏၊ ထဲကျီတို့သည်ပြိုကြ၏၊- တိ
ရစ္ဆာန်တို့သည် အသွန်မြည်တမ်းကြ၏၊ နွားစု
တို့သည် ကျက်စားရာအရပ် မရှိသောကြောင့်
ပင်ပန်းကြ၏၊ သိုးစုတို့သည်ထည်းဆင်းရဲကြ၏၊-
၁၉ အိုထာဝရဘုရား၊ ကိုယ်တော်ကိုအကျွန်ုပ်တို့
ကြော်ပါ၏၊ တောကျက်စားရာအရပ်တို့ကိုမီး

ရှိပါပြီ၊ တောသားထစ်ပင်ရှိသမျှတို့ကိုမီးလျှံလောင်
၂၀ ပါပြီ။- တောသားရဲတို့သည်လည်း ကိုယ်တော်
ကိုတမ်းတကြပါ၏၊ မြစ်ရေခန်းခြောက်ပါပြီ၊
တော၌ကျက်စားရာအရပ်တို့ကိုလည်း မီး
လောင်ပါပြီ။

၂

၁ ဇိအုန်တောင်ပေါ်မှာ တံပိုးကိုမှုတ်ကြလော့၊
သန့်ရှင်းသောတောင်ပေါ်မှာ သတိပေးသော
အသံကိုပြုကြလော့၊ ပြည်သူပြည်သားအပေါင်း
တို့သည် တုန်လှုပ်ကြစေ၊ အကြောင်းမူကား၊ ထာ
၂ ဝရဘုရား၏နေ့ရက်သည်ထာ၍နီးပြီ၊- မိုက်မဲ
သောနေ့၊ မိုဃ်းတိမ်ဖုံး၍မှောင်မိုက်ထူထပ်သောနေ့
ဖြစ်၏၊ နေအာရုဏ်သည် တောင်ထိပ်တို့ကို နှံ့
ပြားသကဲ့သို့ အများဖြစ်၍၊ အားကြီးသော အ
မျိုးသည်ထ၏၊ ရှေးကာလ၌ ထိုသို့မဖြစ်စဖူး၊
နောင်ကာလ အစဉ်အဆက်၌လည်း မဖြစ်ရ
၃ လတုံ၊- သူတို့ရှေ့မှာ မီးလောင်၏၊ နောက်၌
လည်း မီးလျှံတောက်၏၊ ရှေ့တွင်ရှိသော ပြည်
သည် ဧဒင်ဥယျာဉ်ကဲ့သို့ဖြစ်၏၊ နောက်၌ကား
လူတ်ဆိတ်ပယ်ရှင်းသော လွင်ပြင်ဖြစ်၏၊ အ
ကယ်စင်စစ် သူတို့ထံက လွတ်သော အရာမရှိ
၄ လွတ်ရ၊- သူတို့သည် အဆင်းအားဖြင့် မြင်းနှင့်
တူ၍၊ မြင်းစီးသူရဲကဲ့သို့ ပြေးကြလိမ့်မည်၊-
၅ ရထားမြည်သံကဲ့သို့၎င်း၊ အမှိုက်ကိုလောင်
သောမီးမြည်သံကဲ့သို့၎င်း၊ အသံမြည်၍ တောင်
ထိပ်တို့အပေါ်မှာ ခုန်ကြလိမ့်မည်၊ စစ်တိုက်
ခြင်းငှါ ခင်းကျင်း၍ အားကြီးသောလူအလုံးအ
၆ ရင်းကဲ့သို့ဖြစ်ကြလိမ့်မည်၊- သူတို့ရှေ့မှာလူတို့
သည် အလွန်ပင်ပန်းသော စိတ်ရှိ၍၊ ခပ်သိမ်း
သောသူတို့သည် မျက်နှာမည်းကြလိမ့်မည်၊-
၇ သူတို့သည် သူရဲကဲ့သို့ပြေး၍ စစ်သူရဲကဲ့သို့
မြို့ရိုးကိုတက်ကြလိမ့်မည်၊ ထမ်းမဖွဲ့ဘဲ အသီး
အသီးမိမိတို့ထမ်းသို့တည့်တည့် လိုက်ကြလိမ့်
၈ မည်၊- တဦးကိုတဦးမထိုက်ဘဲမိမိထမ်းသို့ မိမိ
လိုက်ကြလိမ့်မည်၊ ထားသွားကိုထိသော်လည်း
၉ နာခြင်းကိုမခံရကြ၊- မြို့ထဲမှာတလည်လည်ပြေး
လျက်၊ မြို့ရိုးကိုကျော်လျက်၊ အိမ်ပေါ်သို့တက်
လျက်၊ သူခိုးကဲ့သို့ ပြူတင်းပေါက်ထဲသို့ဝင်
၁၀ လျက်ရှိကြလိမ့်မည်၊- သူတို့ရှေ့မှာမြေကြီးလှုပ်
လိမ့်မည်၊ မိုဃ်းကောင်းကင်လည်း တုန်မြည်
လိမ့်မည်၊ နေနှင့်လသည်မိုက်၍၊ ကြယ်တို့သည်
၁၁ မထွန်းလင်းဘဲနေကြလိမ့်မည်၊- ထာဝရဘုရား
သည်လည်း၊ မိမိတပ်တော်ရှေ့မှာ အသံကိုဖွင့်
တော်မူမည်၊ တပ်တော်သည်အလွန်ကြီးမား၏၊
စကားတော်အတိုင်းစီရင်သော သူသည်တန်ခိုး
ကြီးတော်မူ၏၊ ထာဝရဘုရား၏နေ့ရက်သည်
ကြီး၍ အလွန်ကြောက်မက်ဖွယ်သောနေ့ရက်
ဖြစ်၏၊ အဘယ်သူခံနိုင်သနည်း။
၁၂ ထို့ကြောင့်၊ ထာဝရဘုရားမိန့်တော်မူသည်
ကား၊ ယခုတွင်အစာရှောင်ခြင်း၊ ငိုကြွေးခြင်း၊
တမ်းတခြင်းနှင့်တကွ စိတ်နှလုံးအကြွင်းမဲ့ငါထံ
၁၃ သို့ပြန်လာကြလော့၊- အဝတ်ကိုမဆုတ်ဘဲ နှလုံး
ကိုဆုတ်လျက်၊ သင်တို့၏ဘုရားသခင်ထာ
ဝရဘုရားထံတော်သို့ပြန်လာကြလော့၊ ကျေးဇူး
နာခြင်းမေတ္တာကရုဏာနှင့်ပြည့်စုံ၍စိတ်ရှည်
သောသဘော၊ အလွန်ကျေးဇူးပြုချင်သော သ
ဘော၊ အပြစ်ပေးခြင်းကိုနောင်တရတတ်သော
၁၄ သဘောရှိတော်မူ၏။- သင်တို့သည် သင်တို့၏
ဘုရားသခင်ထာဝရဘုရားအား ဘောဇဉ်ပူ
ဇော်သကာနှင့် သွန်းလောင်းရာပူဇော်သကာ
ကို ဆက်ကပ်ရန် ဖြစ်စေခြင်းငှါ ဘုရားသခင်
သည် တဖန်ပြန်လာ၍ နောင်တရပြီးလျှင်၊
ကောင်းကြီးမင်္ဂလာကိုထားရစ်စေတော်မူမည်
မမူမည်ကိုအဘယ်သူသိနိုင်သနည်း။
၁၅ ဇိအုန်တောင်ပေါ်မှာတံပိုးကိုမှုတ်ကြလော့၊
အစာရှောင်ရသော အချိန်ကိုခန့်ထား၍ ပွဲကြီး
ခွာကျင့်ရသော အချိန်ကို ကြော်ညာကြလော့၊-
၁၆ လူများတို့ကိုခေါ်၍ စုဝေးသောပရိသတ်တို့ကို
သန့်ရှင်းစေကြလော့၊ အသက်ကြီးသော သူတို့
ကို၎င်း၊ ငယ်သောသူနှင့် နို့နို့သောသူတို့ကို၎င်း
စုဝေးစေကြလော့၊ မင်္ဂလာဆောင်လုလင်သည်မိမိ
အခန်းထဲက၎င်း၊ မင်္ဂလာဆောင်သတို့သမီးသည်
မိမိကွယ်၍နေသောကုလားကာတွင်းက၎င်း
၁၇ ထွက်စေ၊- ထာဝရဘုရား၏ အမှုတော်ဆောင်၊
ယဇ်ပုရောဟိတ်တို့သည်အိမ်တော်ဦးနှင့်ယဇ်
ပလ္လင်စပ်ကြားမှာ ငိုကြွေးလျက်၊ အို ထာဝရ
ဘုရား၊ ကိုယ်တော်၏ လူများကို သနားတော်မူ
ပါ၊ တပါးအမျိုးသားတို့သည် အုပ်စိုး၍ အမွေ
တော်လူတို့ကိုကဲ့ရဲ့စေခြင်းငှါ အပ်တော်မမူပါ
နှင့်၊ သူတို့ဘုရားသခင်ကား၊ အဘယ်မှာ ရှိသ
နည်းဟု၊ တပါးအမျိုးသားတို့သည် အဘယ်
ကြောင့်ဆိုရကြပါသနည်းဟု လျှောက်ကြစေ-
၁၈ ထိုသို့လျှင်၊ ထာဝရဘုရားသည်ပြည်တော်ကိုမစ
ချင်သောစိတ်အားကြီး၍၊ မိမိလူတို့ကို ကယ်မ

၁၉ သနား၊ တော်မူလိမ့်မည်။- အကယ် စင်စစ် ထာ
ဝရဘုရားသည် ထူးတော်မူလျက် ငါသည် ဆန်
စပါး၊ စပျစ်ရည်၊ ဆီကိုပေးလိုက်၍ သင်တို့သည်
ဝကြလိမ့်မည်။ နောက်တဖန်တပါးအမျိုးသား
၂၀ ကဲ့ရဲ့ရာ ဖြစ်စေ ခြင်းငှါ ငါမပြု။- မြောက်မျက်
နှာ တပ်သားတို့ကို သင်တို့ နေရာမှ ငါပယ်ရှား
မည်။ အထယ်သူမျှမရှိ၊ သွေ့ခြောက်သော အ
ရပ်သို့ နှင်ထုတ်မည်။ အရှေ့ပင်လယ်ကို မျက်
နှာပြုလျက်၊ အနောက်ပင်လယ်ကို ကြောမိုင်း
လျက်ရှိသွားလိမ့်မည်။ ပုပ်စပ်နံစော်သောအနံ့
ထွက်လိမ့်မည်။ ထာဝရဘုရားသည် ကြီးသော
အမှုတို့ကိုပြုတော်မူမဉ်ဟုမိန့်တော်မူလိမ့်မည်။
၂၁ ထိုပြည်တော်၊ မစိုးရိမ်နှင့်၊ ဝမ်းမြောက်ရွှင်
လန်းခြင်းရှိလော့။ ထာဝရဘုရားသည် ကြီး
၂၂ သောအမှုတို့ကိုပြုတော်မူမည်။-ထိုတောသားရဲ
တို့၊ မစိုးရိမ်ကြနှင့်။ တောခြက်ပင်ပေါက်လျက်၊
သစ်ပင်တို့သည်အသီးကိုသီးလျက်၊ သဘော်သ
ဖန်းပင်နှင့် စပျစ်နွယ်ပင် တို့ထည်း အားထုတ်
၂၃ လျက်ရှိကြ၏။-ထိုဇိအုန်မြို့သားတို့၊ ဝမ်းမြောက်
၍ သင်တို့၏ ဘုရားသခင် ထာဝရဘုရားကိုအမှီ
ပြုလျက် ရွှင်လန်းကြလော့။ အကြောင်းမူကား၊
ဝစွာဆရာကိုပေးတော်မူ၍ အစအဦးဉ်လည်းအ
ရင်မိုဃ်းနှင့်နောက်မိုဃ်းကို သင်တို့အပေါ်မှာ
၂၄ ရွာစေတော် မူမည်။- ကောက်နယ် တလင်း တို့
သည်စပါးနှင့်ပြည့်၍၊ အသီးနယ်ရာ ကျင်းတို့၌
၂၅ ထည်း ဂျစ်ရည်နှင့်ဆီလျှံကြလိမ့်မည်။- အရာ
ထကျိုင်း၊ ယာလက်ကျိုင်း၊ ခါသိထကျိုင်း၊ ဂါဇံ
ကျိုင်းတည်းဟူသောငါစေလွှတ်သောငါ၏ မထာ
မိုလ်ခြေတို့ကိုက်စားသော နှစ်ပေါင်းကာလကို
၂၆ ငါပြန်ပေးမည်။- သင်တို့သည် ဝစွာ စားရကြ
လိမ့်မည်။ထူးဆန်းကြောဖွယ်သောအမှုတို့ကိုသင်တို့
၌ပြုသောသင်တို့၏ဘုရားသခင်ထာဝရဘုရား၏
နာမတော်ကို ချီးမွမ်းကြလိမ့်မည်။ နောက်တ
ဖန် ငါ၏လူတို့သည်ထဉ်းရှက်ကြောက်ခြင်းမရှိ
၂၇ ရကြ။-ငါသည်ဣသရေလအမျိုး၏အထယ်၌ရှိ
ကြောင်းကိုဎင်၊ အခြားသောဘုရားမရှိ၊ ငါထာ
ဝရဘုရားသဉ်သင်တို့၏ဘုရားသခင်ဖြစ်ကြောင်း
ကိုဎင်သင်တို့သိရကြလိမ့်မည်။နောက်တဖန်ငါ
၏လူတို့သည်ရှက်ကြောက်ခြင်းမရှိရကြ။
၂၈ ထိုနောက်မှ လူမျိုးတကာတို့ အပေါ်သို့ ငါ၏
ဝိညာဉ်တော်ကိုငါသွန်းလောင်းမည်။ သင်တို့၏
သားတို့၊ သမီးတို့သည် ပရောဖက် ဉာဏ်နှင့် ဟော
ပြောရကြလိမ့် မည်။ အသက် ကြီးသော သူတို့
သည် နိမိတ် အိပ်မက် တို့ကို မြင်မက် ရကြလိမ့်
မည်။ အသက်ငယ်သော သူတို့သည်လည်း ဗျာ
၂၉ ဒိတ်ရူပါရုံတို့ကို မြင်ရကြလိမ့်မည်။- ငါ၏အမှု
ကိုဆောင်ရွက်သောယောကျ်ားမိန်းမတို့အပေါ်သို့
ငါ၏ဝိညာဉ်တော်ကို ငါသွန်းလောင်း၍၊ သူတို့
သည် ပရောဖက် ဉာဏ် နှင့် ဟော ပြော ရ ကြ
၃၀ လိမ့်မည်။-မိုဃ်းကောင်းကင်၌ဎင်၊မြေကြီးပေါ်
၌ဎင်၊ထူးဆန်းသောအရာတည်းဟူသောသွေး၊မီး
၃၁ လုံ၊ မီးခိုးတိုင်တို့ကိုငါပြမည်။-ထာဝရဘုရား၏
ကြောက်မက်ဖွယ်သောနေ့ကြီးမတိုင်မှီ၊ နေသည်
မှောင်မိုက်အတိ ဖြစ်လိမ့်မည်။ လသည်ထည်း
၃၂ သွေးဖြစ်လိမ့်မည်။- ထိုအခါ ထာဝရဘုရားကို
ပဌနာပြုသောသူရှိသမျှတို့သဉ်ကယ်တင်တော်
မူခြင်းသို့ရောက်ရကြလတ္တံ့။ အကြောင်းမူကား၊
ထာဝရဘုရားမိန့်တော်မူသည်အတိုင်း၊ ဇိအုန်
တောင်၊ ယေရုရှလင်မြို့၌၊ ထာဝရဘုရားခေါ်
တော် မူသော သူ အကျန် အကြွင်းတို့ အမှီ ကယ်
တင်ခြင်းအခွင့်ရှိရလတ္တံ့။

၃

၁ ထိုနေ့ ရက်ကာလ၌အထက်ကသိမ်းသွားခြင်း
ကိုခံရသောယုဒပြည်သူ၊ယေရုရှလင်မြို့သားတို့
၂ ကို ငါဆောင်ခဲ့ပြန်သောအခါ၊- ခပ်သိမ်းသော
လူမျိုးတကာတို့ကို ငါသည်စုဝေးစေ၍ ယောရှ
ဖတ်ချိုင့်သို့ခေါ်ခဲ့မည်။သူတို့သည်ငပြည်ကိုဝေ
ဖန်၍ အယိုင်းတိုင်းအပြည်ပြည်တို့တွင်ကွဲပြား
စေသောငါ၏အမွေလူ၊ ဣသရေလ အမျိုးအတက်
၃ မှာငါသည်တရားစီရင်မည်။- သူတို့သည် ငါ၏
လူတို့အမှီစာရေးတံချကြပြီး လူကလေးကိုပြည်
တန်ဆာနှင့်ဎင်၊ မိန်းကလေးကို မိမိသောက်စရာ
၄ စပျစ်ရည်နှင့်ဎင်ဖလယ်ကြပြီတကား။-ထိုတုရု
မြို့၊ ဇိဒုန်မြို့၊ ပါလေတ္တိနပြည်နှင့် နီးစပ်သော အ
ရပ် ရှိသမျှတို့၊ သင်တို့သည် ငါနှင့် အဘယ် သို့
ဆိုင်ကြသနည်း။ငကိုရန်ထုံ့ပြုကြမည်လော။ င
ကိုရန်ထုံ့ပြုကြလျှင်၊ ထိုရန်ကိုသင်တို့ခေါင်းပေါ်
၅ သို့အလျှင်အမြန်ငါပြန်ရောက်စေမည်။-သင်တို့
ထဉ်ငွေရွှေကိုယူ၍၊ငါနှစ်သက်ဖွယ်သောဥစ္စာ
မြတ်တို့ကို သင်တို့ ဘုံဗိမာန် ထဲသို့ သွင်းသော
၆ ကြောင့်ဎင်၊- ယုဒပြည်သူ၊ ယေရုရှလင်မြို့သား
တို့ကိုနေရင်းပြည်မှအဝေးသို့ပြောင်းစေလိုသော
ငှါ၊ ယောလသ အမျိုးသားတို့အား ရောင်းလိုက်
၇ သောကြောင့်ဎင်၊-သင်တို့ရောင်းလိုက်ရာအရပ်

မှငါသည်ထမြောက်၍၊ သင်တို့ရန်တုံ့ပြုခြင်းကို
၈ သင်တို့ခေါင်းပေါ်သို့ ပြန်ရောက်စေမည်။- သင်
တို့သားသမီးများကိုလည်း၊ ယုဒအမျိုးသား တို့၌
ငါရောင်း၍၊ သူတို့သည်တဝေးသောအမျိုး၊
ရှေဘပြည်သားတို့၌ ရောင်းလိုက်ကြလိမ့်မည်။
ထိုသို့ထာဝရဘုရားမိန့်တော်မူပြီ၊
၉ ဤအမှုကို တပါးအမျိုးသား တို့ အား ကြား
ပြောကြလော့၊ စစ်တိုက်ခြင်းငှါဟုင်ဆင်၍ စစ်သူ
ရဲတို့ကိုနှိုးဆော်ကြလော့၊ စစ်သူရဲအပေါင်းတို့
၁၀ သည်ချဉ်းကပ်၍တက်လာကြစေ။-သံထွန်သွား
များကိုထားဖြစ်စေခြင်းငှါ၎င်၊တံစဉ်များကိုလှံ
ဖြစ်စေခြင်းငှါ၎င်ထုလုပ် ကြလော့၊ အားနည်း
သောသူက၊ ငါ့ခွန်အားကြီးသည်ဟု ပြောဆိုစေ။-
၁၁ ပတ်လည်၌နေသောတပါးအမျိုးသားအပေါင်း
တို့၊ စုဝေး၍လာကြလော့၊ သင်းချွဲကြလော့၊ စု
ဝေး ရာ အ ရပ်၌ သင် တို့ သူရဲ များ ကို ထာဝရ
၁၂ ဘုရားနှိမ့်ချတော်မူမည်။-တပါးအမျိုးသားတို့
သည်ထ၍ယောရှဖတ်ချိုင့်သို့တက်လာကြစေ၊
ပတ် လည်၌ နေ သော တ ပါး အ မျိုး သား အ
ပေါင်းတို့ကို စစ်ကြောစီရင်ခြင်းငှါ ထိုအရပ်၌
၁၃ ငါထိုင်မည်။- ရိတ်စရာစပါးမှည့်သော့ကြောင့်
တံစဉ်ကို လွှတ်ကြလော့၊ စပျစ်သီးနယ်ရာတန်
ဆာပြည့်၍၊ စပျစ်ရည်ကျင်းတို့သည် လျှံသော့
ကြောင့် လာကြ၊ ဆင်းကြလော့၊ အကြောင်းမူ
ကား၊ သူတို့ပြုသောဒုစရိုက်အပြစ်သည် ကြီးလှ
၁၄ ၏။- ကွပ်ညှပ်ရာချိုင့်၌ လူများစည်းဝေးလျက်၊
လူများ စည်း ဝေး လျက် ရှိကြ၏။ ကွပ် ညှပ် ရာ
ချိုင့်၌ ထာဝရဘုရား၏နေ့ရက်သည် ရောက်လု
၁၅ နီးပြီ။- နေနှင့်လသည်မိုက်လိမ့်မည်၊ ကြယ်တို့
သည်လည်း၊ မထွန်းလင်းဘဲ နေကြလိမ့် မည်။-
၁၆ ထာဝရဘုရားသည်လည်း၊ဇိအုန်တောင်ပေါ်က
ကြွေးကြော်၍၊ ယေရုရှလင် မြို့ထဲက အသံ ကို
လွှင့် တော်မူသဖြင့်၊ မိုဃ်း ကောင်းကင်နှင့် မြေ
ကြီးသည်တုန်လှုပ်လိမ့်မည်။ သို့ရာတွင်၊ထာဝရ
ဘုရား သည် မိမိ လူ တို့ ၏ မှီ လှုံ ရာ၊ ဣသရေလ
အမျိုး သားတို့၏ အစွမ်း သံတွဲ ဖြစ် တော် မူလိမ့်
၁၇ မည်။- ငါသည်လည်း ငါ၏ သန့်ရှင်းသောဇိအုန်
တောင်ပေါ်မှာ နေ သော သင်တို့၏ ဘုရားသခင်
ထာဝရ ဘုရား ဖြစ် ကြောင်းကို သင်တို့ သိရကြ
လိမ့်မည်။ ယေရု ရှလင် မြို့သည်လည်း၊ သန့်ရှင်း
လိမ့် မည်၊ နောက် တဖန် ထိုမြို့ကို တပါး အမျိုး
သားမနင်းရ။
၁၈ ထိုကာလ၌ချိုသောစပျစ်ရည်သည်တောင်တို့
မှယိုလိမ့်မည်၊ နို့ရည်သည်ကုန်းတို့မှထွက်လိမ့်
မည်၊ ယုဒမြစ်ရှိသမျှတို့သည်ရေစီးကြလိမ့်မည်၊
ထာဝရဘုရား၏ အိမ်တော်ထဲက စမ်းရေထွက်
၁၉ ၍ရှိတ္တိမ်ချိုင့်ကိုစိုစေလိမ့်မည်။- ယုဒပြည်၌အ
ပြစ်မရှိသော သူတို့ကို သတ်၍ ယုဒအမျိုးသား
တို့ကို ညှဉ်းဆဲ သော့ကြောင့်၊ အဲဂုတ္တုပြည်
သည် လူဆိတ်ညံ လျက် ရှိလိမ့်မည်၊ ဧဒုံ ပြည်
သည် လည်း၊ လူဆိတ်ညံ သော တော ဖြစ်လိမ့်
၂၀ မည်။- ယုဒ ပြည် မူကား၊ ထာဝရပြည်၊ ယေရု
ရှလင်မြို့မူကား၊ ကာလ အစဉ် အဆက် တည်
၂၁ သော မြို့ဖြစ်လိမ့်မည်။- ထိုမြို့သားတို့သည် အ
သေ သတ် ခြင်းကို ခံရသော အပြစ် ကြောင့်၊ ငါ
သည် မပေး သေး သော ဒဏ် ကို တဖန် ပေး ဦး
မည်။ ထာဝရဘုရားသည် ဇိအုန်တောင်ပေါ်မှာ
ကျိန်းဝပ်တော်မူသတည်း။

ပရောဖက်ယောလထံစီရင်ရေးထားသောအဲနာဂတ္တိကျမ်းပြီး၏။

---

# အာမုတ်အနာဂတ္တိကျမ်း။

## AMOS.

---

၁

၁ ယုဒရှင်ဘုရင်ဩဇိမင်း၊ ဣသရေလရှင်ဘုရင်
ယောအာရှ၏ သား ယေ ရော ဗောင် မင်း တို့ လက်
ထက်၊ မြေကြီး မလှုပ်မှီ နှစ်နှစ် အထက်က၊ သိုး
ထိန်းစု အဝင်ဖြစ်သော တေကောသရွာသား အာ
မုတ်သည်ဣသရေလပြည်အတွက်ခံရသော ဗျာ
၂ ဒိတ်တော်စကားဟူမူကား။-ထာဝရဘုရားသည်
ဇိအုန်တောင်ပေါ်ကကြွေးကြော်၍၊ ယေရုရှလင်

မြို့ထဲကအဆံကို ဘွင့်တော်မူသော့ကြောင့်၊ သိုး ထိန်းနေရာတို့သည်ညှိုးငယ်၍၊ ကရမေလတောင် ထိပ်သည်ခြောက်ရလိမ့်မည်။

၃ ထာဝရ ဘုရား၊ မိန့် တော်မူသည် ကား၊ ဓမာ သက်မြို့သည်ဂိလဒ်ပြည်ကိုစပါးနယ်ရာသံတန်း ရား၊စက်တို့နှင့် ကြိတ်နယ်သော အပြစ်သုံးပါး၊မ က၊ အပြစ်လေးပါး၊ကြောင့်ငါသည် ဒဏ်မပေး

၄ ဘဲမနေ။- ဟာဇေလ မင်းမျိုး အ ပေါ်သို့ မီး ကို လွှတ်၍၊ဗင်ဟာဒဒ်မင်း၏ဘုံဗိမာန်တို့ကိုလောင်

၅ စေမည်။-ဓမာသက်မြို့တံခါးကန့်လန့်ကျင်တို့ကို ချိုးမည်။အာဝင်ချိုင့်သားတို့ကိုငင်၊ဧဒင်ဗိမာန်၌မင်းပြုသောသူတို့ကိုငင် ပယ်ဖြတ်မည်။ရှုရိ ပြည်သားတို့သည်ကိရမြို့သို့သိမ်းသွားခြင်းကို ခံရကြမည်ဟု၊ထာဝရဘုရားမိန့်တော်မူ၏။

၆ တဖန် ထာဝရဘုရား၊ မိန့်တော်မူသည်က. ဂါဇမြို့သည် ချုပ်ထားသော သူအပေါင်းတို့ကို ဧဒုံမင်း၌အပ်ခြင်းငှါသိမ်းသွားသောအပြစ်သုံး ပါး၊မက၊အပြစ်လေးပါး၊ကြောင့်ငါသည်ဒဏ်မ

၇ ပေး၍ဘဲမနေ။- ဂါဇမြို့ရိုးအပေါ်သို့မီးကိုလွှတ်၍

၈ ဘုံဗိမာန်တို့ကို လောင်စေမည်။- အာဇုတ်မြို့ သားတို့ကိုငင်၊ အာရှကေလုန်မြို့၌မင်းပြုသော သူတို့ကိုငင် ပယ်ဖြတ်မည်။ ဧကြုန်မြို့ကိုလည်း တိုက်၍ကျန်ကြွင်းသောဖိလိတ္တိလူတို့သည်ပျက် စီးကြ လိမ့် မည်ဟု၊ အရှင် ထာဝရ ဘုရား၊ မိန့် တော်မူ၏။

၉ တဖန် ထာဝရ ဘုရားမိန့် တော်မူသည်ကား၊ တုရုမြို့သည်ညီအစ်ကိုချင်းဖွဲ့သောမိဿဟာယ ကိုမအောက်မေ့၊ ချုပ်ထားသောသူအပေါင်းတို့ကိုဧ ဒုံမင်း၌ အပ်သော အပြစ် သုံးပါး၊ မက၊ အပြစ် လေးပါး၊ကြောင့် ငါသည် ဒဏ်မပေးဘဲ မနေ။-

၁၀ တုရုမြို့ရိုးအပေါ်သို့မီးကိုလွှတ်၍ ဘုံဗိမာန်တို့ ကိုလောင်စေမည်။

၁၁ တဖန်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ဧ ဒုံပြည်သည်သနားသောစိတ်ကိုချုပ်တည်း၍၊ ညီအစ်ကိုကိုထား၊နှင့်လိုက်သောအပြစ်၊ဒေါသ စိတ်နှင့် အစဉ်အမြဲ ဆွဲဖြတ်၍ အစဉ်အမြဲအ မျက်ထားသော အပြစ်သုံးပါး၊မက၊ အပြစ် လေး

၁၂ ပါး၊ကြောင့်ငါသည်ဒဏ်မပေးဘဲမနေ။-တေမန် မြို့အပေါ်သို့မီးကိုလွှတ်၍၊ ဗောဇရမြို့၏ဘုံဗိမာန် တို့ကိုလောင်စေမည်။

၁၃ တဖန် ထာဝရဘုရား မိန့် တော်မူသည်ကား၊ အမ္မုန်ပြည်သားတို့သည် မိမိတို့နေရာကို ကျယ် စေခြင်းငှါ၊ကိုယ်ဝန်ဆောင်သောဂိလဒ်ပြည်သူ မိန်းမတို့၏ ဝမ်းကို ခွဲသော အပြစ်သုံးပါး၊မက၊ အ ပြစ်လေးပါး၊ကြောင့်ငါသည်ဒဏ်မပေးဘဲမနေ။-

၁၄ ရဗ္ဗာမြို့ရိုး၊ကို မီးရှို့၍ ဘုံဗိမာန်တို့ကိုလောင်စေ မည်။စစ်တိုက်သောနေ့၌အော်ဟစ်ခြင်း၊ ရူပါး သက် မုန် တိုင်း၊ ရောက် သော နေ့ ၌ လွှင့် သွား

၁၅ ခြင်း၊ ရှိလိမ့်မည်။- သူ တို့ ရှင် ဘုရင် ကိုယ် တိုင် မှစ၍၊ မှူးတော်မတ်တော်ရှာ၊တို့သည်သိမ်း၊သွား ခြင်း၊ကို ခံရကြလိမ့်မည်ဟု၊ ထာဝရဘုရား၊ မိန့် တော်မူ၏။

၂

၁ တဖန် ထာဝရဘုရား၊ မိန့်တော်မူသည်ကား၊ မောအ ပြည်သည် ဧဒုံရှင် ဘုရင်၏ အရိုး တို့ကို ထုံး၊ဖြစ်စေခြင်း၊ငှါ မီး၊နှင့် ရှို့သော အပြစ် သုံး ပါး၊မက၊ အပြစ်လေး၊ပါး၊ကြောင့်ငါသည်ဒဏ်

၂ မပေးဘဲ မနေ။- မောအ ပြည် အပေါ်သို့ မီး ကို လွှတ်၍၊ကေရုတ်မြို့၏ဘုံဗိမာန်တို့ကိုလောင်စေ မည်။ ကြီး၊သော အသံ မထ ပြုခြင်း၊ အော် ဟစ် ခြင်း၊တံပိုး၊မှုတ်ခြင်း၊နှင့်တကွမောအပြည်သည်

၃ ဆုံး၊ရှုံး၊ရလိမ့်မည်။-မောအပြည်အလယ်၌တရား သူကြီး၊ကို ငါပယ်ဖြတ်၍၊ သူနှင့်တကွမှူး၊မတ်အ ပေါင်း၊တို့ကိုကွပ်မျက်မည်ဟု၊ထာဝရဘုရား၊မိန့် တော်မူ၏။

တဖန် ထာဝရဘုရား၊ မိန့်တော် မူသည်ကား၊ ယုဒအမျိုး၊သည်ထာဝရဘုရား၊၏ရင်တော်မူချက် တို့ကိုမအောက်မေ့၊ပညတ်တရား၊တော်ကိုစွန့်ပြစ်၍၊ ဘိုး၊ဘေး၊တို့ လိုက် ဘူး၊သော မိစ္ဆာဘိမ်၌ အား၊ဖြင့် မှား၊ယွင်း၊သော အပြစ်သုံး၊ပါး၊မက၊ အပြစ်လေး

၅ ပါး၊ကြောင့် ငါသည် ဒဏ်မပေးဘဲမနေ။- ယုဒ ပြည်အပေါ်သို့ မီး၊ကိုလွှတ်၍၊ ယေရုရှလင်မြို့၏ ဘုံဗိမာန်တို့ကိုလောင်စေမည်။

၆ တဖန် ထာဝရဘုရား၊ မိန့် တော်မူသည်ကား၊ ဣသရေလ အမျိုး၊သည် ဖြောင့်မတ်သော သူကို ငွေနှင့်ငင်၊ဆင်း၊ရဲသောသူကိုဖြနင်း၊တရံနှင့်ငင်

၇ ရောင်း၊သောအပြစ်၊- ဆင်း၊ရဲသောသူတို့၏ခေါင်း၊ ကို မြေမှုန့် နှင့် ဖုံး၊လွှမ်း၊စေခြင်း၊ငှါ အလွန်အလို ကြီး၍၊ နှိမ့်ချသော သူကို မတရား၊သဖြင့် စီရင် သော အပြစ်၊ ငါ၏နာမမြတ်ကိုရှုတ်ချခြင်း၊ငှါ အ စ နှင့်သား၊သည်တဦး၊တည်း၊သောမိန်းမကို ပေါင်း၊

၈ ဖော်သော အပြစ်၊- ပေါင် ထား၊သော အဝတ်ကို စပ်သိမ်း၊သော ထက် ပလ္လင်တို့ အနား၌ ခင်း၍ ထိုင်သော အပြစ်၊ လျော်ကြေးငွေနှင့် ဝယ်သော

စပျစ်ရည်ကို ထိုဘုရား၏အိမ်၌ သောက်ကြသော
အပြစ်သုံးပါးမက၊ အပြစ်လေးပါး ကြောင့် ငါ
ဒဏ်ကို မပေးဘဲမနေ။
၉ အာရဇ်ပင်အရပ်နှင့် အမျှမြင့်၍ သပိတ်ပင်
ကဲ့သို့ ခိုင်မာသော အာမောရိ အမျိုးကို သင်တို့
ရှေ့မှာ ငါပယ်ရှား၍၊ အထက်၌ သူ၏ အသီးကို
၎င်း၊ အောက်၌ သူ၏ အမြစ်ကို ၎င်း ငါ ဖျက်ဆီး
၁၀ ပြီ။ သင်တို့ကိုအဲဂုတ္တုပြည်မှနှုတ်ယူ၍အာမော
ရိပြည်ကို ဝင်စားစေခြင်းငှါ၊ အနှစ်လေးဆယ်
၁၁ မက်လုံးတော၌သွေးဆောင်ပြီ။ သင်တို့သားထဲမှ
ကိုပရောဖက်အရာ၊ လုလင်အချို့ကို နာဇရိလုလ
ရာ၌ ငါခန့်ထားပြီ။ အို ဣသရေလ အမျိုး သား
တို့၊ ဤစကားမှန်သည်မဟုတ်သလော၊ ထာဝရ
၁၂ ဘုရားမိန့်တော်မူ၏။ သင်တို့မူကား၊ နာဇရိလု
လင်တို့ကိုစပျစ်ရည်ကိုပေးကြပြီ။ ပရောဖက်တို့
ကိုလည်း၊ ပရောဖက်ပြု၍ မဟောကြနှင့်ဟု မြစ်
၁၃ တားကြပြီ။ ထိုကြောင့်၊ ကျည်းသည် အပြည့်
တင်သောလှည်းထိုင်း၏ဖိနှိပ်ခြင်းကို ခံရသကဲ့
၁၄ သို့၊ သင်တို့၏ နေရာအရပ်ကိုငါဖိနှိပ်မည်။ အ
လျင်အကောင်းသောသူသည်ပြေးသောအခွင့်ကိုမ
ရ၊ ခွန်အားကြီးသော သူသည် မိမိခွန်အားကို
ထုတ်ရသောအခွင့်မရှိရ၊ သူရဲသည်ကိုယ်ကိုမ
၁၅ ကယ်လွတ်ရ။ လေးကိုကိုင်သောသူသည်မရပ်
ရ၊ လျင်မြန်သောခြေသည်သူရဲသည် ကိုယ်ကို
မကယ်လွတ်ရ၊ မြင်းစီးသူရဲသည်လည်း ကိုယ်
၁၆ ကိုမကယ်လွတ်ရ။ ရဲရင့်သောသူရဲသည်ထိုနေ့
၌ အဝတ်မပါဘဲ ပြေးသွားရလိမ့်မည်ဟု၊ ထာ
ဝရဘုရားမိန့်တော်မူ၏။

၃

၁ အိုဣသရေလအမျိုးသားတို့၊ အဲဂုတ္တုပြည်မှ
ငါ နှုတ်ဆောင်သော အမျိုးသား အပေါင်း တို့၊
သင်တို့ကိုရည်မှတ်၍ငါထာဝရဘုရားမိန့်တော်မူ
၂ သောစကားကို နားထောင် ကြလော့။ မြေကြီး
ပေါ်မှာ နေ သော အ မျိုးသား အပေါင်း တို့တွင်
သင်တို့ တမျိုး တည်း ကို သာ ငါ လက် ခံ သော
ကြောင့်၊ သင်တို့အပြစ်ရှိသမျှထိုကိုငါစစ်ကြော
၃ မည်။ လူနှစ်ဦးသည်သဘောမတူလျှင်၊ ပေါင်း
၄ ဖော်၍ ခရီးသွား နိုင် သလော။ ခြင်္သေ့ သည်
စားစရာ မရှိ လျှင်၊ တော၌ ဟောက် လိမ့်မည်
လော။ ခြင်္သေ့ပျိုသည်အဘယ်အရာကိုမျှမဖမ်း
၅ မိလျှင်၊ တွင်းထဲကအသံပြုလိမ့်မည်လော။ မြေ
ပေါ်မှာ ကျော့ကွင်းနှင့် မထောင်လျှင်၊ ငှက် ကို
ကျော့မိလိမ့်မည်လော။ ထောင်ထားသောကျော့
ကွင်း၌ အဘယ်အရာကိုမျှမရမိသော်ထားရာ
၆ အရပ်မှ နှုတ်သွားလိမ့်မည်လော။ မြို့ထဲမှာတံ
ပိုးမှုတ်လျှင်၊ မြို့သားတို့သည် မကြောက်မလန့်
ဘဲ နေကြ လိမ့် မည် လော။ ထာဝရဘုရားစီရင်
တော်မမူဘဲ ဘေးဥပဒ်သည်မြို့ထဲမှာရောက်
၇ လိမ့်မည်လော။ အကယ်စင်စစ် အရှင်ထာဝရ
ဘုရားသည်မိမိကျွန်ပရောဖက်တို့အား မဖော်မ
၈ ပြဘဲအဘယ်အမှုကိုမျှစီရင်တော်မမူ။ ခြင်္သေ့
ဟောက်သောအခါ၊ အဘယ်သူမျှ မကြောက်မ
လန့်ဘဲ နေလိမ့်မည်နည်း။ အရှင်ထာဝရဘုရား
မိန့်တော် မူ သောအခါ၊ အဘယ်သူသည် ပရော
ဖက် မပြုဘဲ နေလိမ့်မည်နည်း။
၉ အာဇုတ်မြို့ဘုံဗိမာန်တို့နှင့်အဲဂုတ္တုပြည်ဘုံ
ဗိမာန် တို့တွင် သိတင်း ကြား ပြော ရ မည် မှာ၊
ရှမာရိတောင်တို့အပေါ်မှာစုဝေး၍၊ ရှမာရိမြို့ထဲ
မှာရုန်းရင်းခတ်ခြင်းအမှုကို၎င်း၊ မြို့ထဲမှာညှဉ်း
၁၀ ဆဲခံရသောသူတို့ကို၎င်း ကြည့်ရှုကြလော့။ မြို့
သားတို့သည်တရားသောအမှုကိုမပြုတတ်၊ အ
နိုင်အထက်ပြု၍ လုယူသောဥစ္စာကို ဘုံဗိမာန်
တို့၌ သိုထားတတ်ကြသည်ဟု၊ ထာဝရ ဘုရား
၁၁ မိန့်တော်မူ၏။ ထိုကြောင့်၊ အရှင်ထာဝရဘုရား
မိန့် တော်မူသည် ကား၊ ရန် သူတို့သည် ရှမာရိ
ပြည်ကိုဝိုင်းပြီးလျှင်၊ သင်၏အစွမ်းသတ္တိကိုနှိမ့်
၁၂ ချ၍၊ ဗိမာန်တို့ကို လုဖျက်ကြလိမ့်မည်။ ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သိုးထိန်းသည်
ခြင်္သေ့နှုတ်ထဲကခြေနှစ်ခု၊ သို့မဟုတ်၊ နားရွက်
တပိုင်းကို နှုတ်ယူသကဲ့သို့ ရှမာရိ မြို့၌ ရုတင်
ထောင့်၊ ဒမာသက်မွေ့ရာဖုံပေါ်မှာ ထိုင်သော ဣ
သရေလအမျိုးသားတို့ကို နှုတ်ယူရလိမ့်မည်။
၁၃ ကောင်းကင် ဗိုလ်ခြေကို အစိုးပိုင်သော ဘုရား
သခင်၊ အရှင် ထာဝရဘုရားမိန့်တော်မူသော စ
ကားကို သင်တို့သည် နားထောင်၍ ယာကုပ်အ
၁၄ မျိုးသားတို့အားသက်သေခံရမည်မှာ၊ အကယ်စင်
စစ် ဣသရေလ အမျိုး၏ အပြစ်တို့ကို စစ်ကြော
သော နေ့၌၊ ဗေသလ ယဇ်ပလ္လင် တို့ ကို ငါ စစ်
ကြောလျက်၊ ယဇ်ပလ္လင်ဦးချိုတို့ကိုဖြတ်၍မြေ
၁၅ ပေါ်သို့ ချမည်။ ဆောင်းကာလ၌ နေသော နန်း
တော်နှင့် နွေကာလ၌နေသောနန်းတော်တို့ကို ငါ
ထိခိုက်၍၊ ဆင်စွယ်ဖြင့်ပြီးသောအိမ်တို့ကိုဖျက်
ဆီးမည်။ ဘုံဗိမာန်တို့သည်လည်း ဆုံးကြလိမ့်
မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။

၄

၁ ဆင်းရဲသောသူတို့ကို ညှဉ်းဆဲလျက်၊ ငတ်
မွတ်သောသူတို့ကို နှိပ်စက်လျက်၊ မိမိသခင်တို့
အား၊ ငါတို့သောက်မည့်ဟူ၍ ဆောင်ခဲ့ကြဟု ဆိုတတ်လျက်၊
ရှမာရိတောင်ပေါ်မှာနေသော ဗာရှန်နွားတို့၊ ဤ
၂ စကားတော်ကိုနားထောင်ကြလော့။- အရှင်ထာ
ဝရဘုရားသည်မိမိသန့်ရှင်းခြင်းဖြင့်ကျိန်ဆိုတော်မူသည်အတိုင်း၊ သင်
ထိုင်တည်၍ ကျိန်ဆိုတော်မူသည်အတိုင်း၊ သင်
တို့ကိုငါးမျှားနှင့်၎င်း၊သင်တို့သားမြေးတို့ကိုပိုက်
ကွန်နှင့်၎င်း ဖမ်းဆီး၍ သွားရသော ကာလ
၃ ရောက်လိမ့်မည်။- သင်တို့သည် အသီးအသီး
ကိုယ်မီကြွေသောအပေါက်ဖြင့်ထွက်၍ ရဲထိုက်
ထဲသို့ချခြင်းကိုခံရကြမည်ဟု၊ထာဝရဘုရားမိန့်
၄ တော်မူ၏။- ဗေသလမြို့သို့သွား၍ ပြစ်မှားကြ
လော့။ ဂိလဂါလမြို့သို့ လည်းသွား၍ များစွာ
သောပြစ်မှားခြင်းကို ပြုကြလော့။ နံနက်တိုင်းပူ
ဇော်သောယဇ်ကိုရှင်၊သုံးနှစ်ထက်ခါဥ ဆယ်ဘို့
၅ တဘို့ကိုရှင်ဆောင်ခဲ့ကြလော့။- လုပ်ယူသောဥ ဆ
ထဲက ကျေးဇူးချီးမွမ်းရာ ပူဇော်သက္ကာကို မီးရှို့
ကြလော့။အလိုလိုပြုသောပူဇော်သက္ကာများကို
လည်း ကြားပြော၍ ကျော်ညာစေကြလော့။ ဣ
သရေလအမျိုးသားတို့၊ ထိုသို့ပြုရာ၌ သင်
တို့သည်နှစ်သက်တတ်ကြသည်ဟု၊ အရှင်ထာ
ဝရဘုရားမိန့်တော်မူ၏။
၆ ငါသည်လည်း၊သင်တို့မြို့ရွာရှိသမျှတို့၌သွား
တို့၏စင်ကြယ်ခြင်းကို၎င်း၊ သင်တို့နေရာအရပ်ရှိ
သမျှတို့၌ အစာ ခေါင်းပါးခြင်းကို၎င်း ပေးသော်
လည်း၊သင်တို့သည်ငါ့ထံသို့ပြန်၍ မလာကြဟု၊
၇ ထာဝရဘုရား မိန့်တော်မူ၏။- စပါးရိတ်ရာကာ
လ မရောက်မှီ သုံးလအထက်က၊ မိုဃ်းမရွာ စေ
ခြင်းငှါ မိုဃ်းကို ငါဆီးတားပြီ။ မြို့တမြို့ပေါ်မှာ
ရွာစေခြင်းငှါ၎င်း၊ တမြို့ပေါ်မှာ မရွာစေခြင်းငှါ
၎င်းပြုလျက်၊ မြေတကွက်သည်မိုဃ်းရေကိုခံရ၍
တကွက်သည်မခံရ၊ခြောက်ခြောက်လျက်နေရ၏။-
၈ ထိုသို့ မြို့နှစ်မြို့ သုံးမြို့သားတို့သည် ရေသောက်
ခြင်းငှါ မြို့တမြို့သို့ သွား၍ မဝရကြ။ သို့သော်
လည်း၊ သင်တို့သည်ငါ့ထံသို့ ပြန်၍မလာကြဟု၊
၉ ထာဝရ ဘုရားမိန့်တော်မူ၏။- လေထိ၍ အပင်
သေခြင်း၊အရည်ယို၍သေခြင်းဘေးဖြင့်ငါသည်
ဒဏ်ခတ်လေပြီ။သင်တို့၌များပြားသောဥယျာ
ဥ၊ စပျစ်ဥယျာဉ်၊ သင်္ဘောသဖန်းပင်၊ သံလွင်
ပင်တို့ကိုကျိုင်းကောင်တို့သည် ကိုက်စားကြပြီ။
သို့သော်လည်း၊ ငါ့ထံသို့ပြန်၍မလာကြဟု၊ ထာ
၁၀ ဝရဘုရား မိန့်တော်မူ၏။- အဲဂုတ္တုပြည်ခံရ
သော ကာလနာဘေးကို သင်တို့ရှိရာသို့ ငါစေ
လွှတ်လေပြီ။ လုလင်တို့ကို ထားဖြင့် ကွပ်မျက်
စေပြီ။မြင်းတို့ကိုသိမ်းသွားစေပြီ။ သင်တို့တပ်၌
ပုပ်စပ်သောအနံ့ကို သင်တို့နှာခေါင်း၌ ထိုင်စေ
ပြီ။ သို့သော်လည်း၊ ငါ့ထံသို့ပြန်၍ မလာကြဟု၊
၁၁ ထာဝရဘုရားမိန့်တော်မူ၏။-ဘုရားသခင်သည်
သောဒုံမြို့နှင့် ဂေါမောရမြို့ကို ဖျောက်လှန်သကဲ့
သို့၊ သင်တို့အချို့ကို ငါဖျောက်ဖျက်၍ သင်တို့
သည်မီးထဲက နှုတ်သောထင်းစကဲ့သို့ဖြစ်ကြပြီ။
သို့သော်လည်း၊ငါ့ထံသို့ပြန်၍မလာကြဟု၊ ထာ
၁၂ ဝရဘုရားမိန့်တော်မူ၏။- သို့ဖြစ်၍၊ ဣသရေ
လအမျိုး၊ အထက်ကပြုသကဲ့သို့ သင်တို့၌ ငါပြု
ဦးမည်။ထိုသို့ပြုမည်ဖြစ်သောကြောင့်၊ ဣသ
ရေလအမျိုး၊ သင်၏ဘုရားသခင်နှင့်တွေ့ခြင်းငှါ
၁၃ ကိုယ်ကို ပြင်ဆင်လော့။- တောင်တို့ကို လုပ်၍
လေကို ဖန်ဆင်းထသော၊ လူမိတ်အကြံ အစည်
ကို လူအားဖော်ပြထသော၊ နံနက်အလင်းကို အ
မိုက်ဖြစ်စေထသော၊ မြင့်သော မြေအရပ်တို့ကို
နင်းသောသူသည်ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရားတည်းဟူသောနာမရှိတော်မ၏။

၅

၁ ဣသရေလ အမျိုး၊ သင်တို့၌ ငါမြွက်
ဆို၍ မြည်တမ်းသော စကားကို နားထောင်ကြ
၂ လော့။- ဣသရေလသတို့သမီးကညာသည်လဲပြီ။
နောက်တဖန်မထရ၊မိမိမြေပေါ်မှာတုံးလုံးနေ၏။
၃ မြို့ကြွ သော သူမရှိ။- အရှင် ထာဝရ ဘုရား မိန့်
တော် မူသည်ကား၊ ဣသရေလအမျိုး၏ အမှုကို
ထမ်းစေတို့ လူတထောင် ကို ပေးနိုင် သော မြို့
သည်လူတရာ၊တရာကိုပေးနိုင်သောမြို့သည်တ
၄ ကျိပ်ကိုသာပေးနိုင်လိမ့်မည်။- ထာဝရဘုရား
သည် ဣသရေလ အမျိုးအား မိန့်တော် မူသည်
ကား၊ ငါ့ကိုရှာကြလော့၊ ရှာလျှင် အသက် ချမ်း
၅ သာရကြလိမ့်မည်။-ဗေသလမြို့ကိုမရှာကြနှင့်၊
ဂိလဂါလ မြို့သို့မဝင်ကြနှင့်၊ ဗေရရှေဘမြို့သို့ မ
သွားကြနှင့်၊ အကြောင်းမူကား၊ ဂိလဂါလမြို့
သည် ဆက်ဆက် သိမ်း သွား ခြင်းကို ခံရလိမ့်
မည်၊ ဗေသလမြို့သည်လည်း၊ အကျိုးနည်းရှိရ
၆ လိမ့်မည်။- ထာဝရဘုရားကို ရှာကြလော့၊ ရှာ
လျှင်အသက်ချမ်းသာရကြလိမ့်မည်။သို့မဟုတ်
လျှင်၊ ယောသပ်အမျိုးအပေါ်မှာမီးကဲ့သို့ တတ်

၍ မီးထသော်သူမျှမငြိမ်းနိုင်အောင်ဗေသလအ
၇ မျိုးကို လောင်စေတော်မူမည်။— တရားသဖြင့် စီ
ရင်ခြင်းကိုဒေါနဖြစ်စေ၍ ဖြောင့်မတ်ခြင်းတရား
၈ ကိုမြေသို့ ချကြပြီးသောသူတို့၊— မိပကြယ်စုနှင့်
စယ်ထကြယ်ကို စန်ဆင်းတော်သော၊ သေမင်းအ
ရိပ်ကို နံနက်အလင်း ဖြစ်စေခြင်းငှါလည်း၊ နေ့အ
လင်းကိုညဥ့်အမိုက်ဖြစ်စေခြင်းငှါလည်း စီရင်တ
သော၊ ပင်လယ်ရေကို ခေါ်၍ မြေပေါ်မှာ သွန်း
လောင်းတော်သော၊ ထာဝရဘုရားတည်းဟူသော
၉ ဘွဲ့နာမ ရှိတော်သော၊— ခွန်အားကြီးသော သူတို့
ကိုလည်း၊ ခဲတိုက်တို့ကိုလည်း ဖျက်ဆီးတော်မူသော
၁၀ ဘုရား ကို ရှာ ကြ လော့၊— မြို့တံခါးဝတွင် ဆုံးမ
တတ်သော သူကို မုန်း၍၊ ဖြောင့်မတ်စွာ ပြော
တတ်သောသူကို ရွံရှာကြပြီတကား၊
၁၁ သင်တို့သည် ဆင်းရဲ သားကို နှိပ်စက်၍ ဂျုံ
စပါးကိုတောင်းခံတတ်သောကြောင့်၊ ဆစ်သော
ကျောက်နှင့် တိုက် ကို တည် သော် လည်း၊ ထို
တိုက်၌ မနေရ ကြ။ နှစ် သက် ဘွယ် သော စပျစ်
ဥယျာဉ်ကို စိုက် သော် လည်း၊ စပျစ် ရည်ကို မ
၁၂ သောက်ရကြ။— သင်တို့ အထပ်ထပ် ပြစ်မှား
သောအမှုတို့၊ အလွန်လေးသောအပြစ်တို့ကိုငါ
သိ၏၊ ဖြောင့်မတ်သော သူကို နှောင့်ရှက်တတ်
ကြ၏၊ တံစိုးစားတတ်ကြ၏၊ ဆင်းရဲသားကို တံ
၁၃ ခါးဝတွင်မတရားသဖြင့်စီရင်တတ်ကြ၏။— ထိုသို့
သော ကာလသည် ဆိုးယုတ်သော ကာလ ဖြစ်
သောကြောင့်၊ ပညာရှိသောသူသည်တိတ်ဆိတ်
၁၄ စွာနေလိမ့်မည်။— အသက်ရှင်သာစေခြင်းငှါဒုစ
ရိုက်ကိုရှောင်၍ သုစရိုက်ကို ရှာကြလော့။ ထိုသို့
ပြုလျှင်၊ သင်တို့ဆိုတတ်သည်အတိုင်း ကောင်း
ကင်ဗိုလ်ခြေအရှင် ဘုရားသခင် ထာဝရဘုရား
၁၅ သည်သင်တို့နှင့်အတူရှိတော်မူလိမ့်မည်။— ဒုစ
ရိုက်ကို မုန်း၍ သုစရိုက်ကိုချစ်ကြလော့၊ မြို့တံခါး
ဝတွင်တရားကိုတည်စေကြလော့၊ ကောင်းကင်
ဗိုလ်ခြေ အရှင်ဘုရားသခင် ထာဝရဘုရားသည်
ကျန်ကြွင်းသော ယောသပ် အမျိုး ကို အနုအ
ထောင်းသနားတော်မူလိမ့်မည်။
၁၆ ကောင်းကင် ဗိုလ်ခြေ အရှင် ဘုရားသခင် ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ ခပ်သိမ်းသော
လမ်းတို့၌ငိုကြွေးခြင်း ရှိ၍ သွားလာသောသူ
တို့က အလိုလေး၊ အလိုလေးဟုဆိုကြလိမ့်မည်၊
လယ်လုပ်သောသူသည်လည်း ငိုကြွေးခြင်းငှါ
ရန်၊ မြည်တမ်းတတ်သောသူသည်ငိုကြွေးမြည်
၁၇ တမ်းစေခြင်းငှါ ခေါ်ကြလိမ့်မည်။— ခပ်သိမ်း
သောစပျစ်ဥယျာဉ်တို့၌လည်း၊ မြည်တမ်းခြင်းရှိ
လိမ့်မည်၊ အကြောင်းမူကား၊ ငါသည်သင်တို့အ
ထဲ၌ရှောက်သွားမည်ဟု၊ ထာဝရဘုရား မိန့်
၁၈ တော်မူ၏။— ထာဝရဘုရား၏ နေ့ရက် ကိုတောင့်
တသောသူတို့သည် အမင်္ဂလာရှိကြ၏၊ သင်တို့
သည်အဘယ်အကျိုးရှိကြလိမ့်မည်နည်း။ ထာ
ဝရဘုရား၏နေ့ရက်သည်သင်တို့၌ထင်းသည်မ
၁၉ ဟုတ်၊ အမိုက်ဖြစ်လိမ့်မည်။— လူသည်ခြင်္သေ့မှ
ရှောင်ပြေး၍ဝံကို တွေ့သကဲ့သို့၎င်း၊ အိမ်ထဲသို့ဝင်
၍ ထရံကိုမှီသည် မြွေကိုက်သကဲ့သို့၎င်း ဖြစ်လိမ့်
၂၀ မည်။— ထာဝရဘုရား၏နေ့ရက်သည် မလင်းဘဲ
မိုက်လိမ့်မည်၊ ထွန်းလင်းခြင်းအလျှင်းမရှိ၊ အ
မိုက်သက်သက်ဖြစ်လိမ့်မည်။
၂၁ သင်တို့စောင့်သော ပွဲနေ့တို့ကို ငါမုန်း၏၊ စက်
ဆုပ်ရွံရှာ၏၊ ဖြိုးဖြိုးဘွာကျင်းသောနေ့ရက်တို့၌ငါ
၂၂ မမွေ့လျော်။— မီးရှို့ရာယဇ်နှင့်ဘောဇဉ်ပူဇော်
သကာတို့ကို ဆက်ကပ် သော်လည်း၊ ငါလက်မ
ခံ၊ ဆူဝသောတိရစ္ဆာန်တို့ကို မိဿဟာယယဇ်
၂၃ ပူဇော်သော်လည်း၊ ငါသည်ပမာဏမပြု။— သင်
တို့သီချင်းဆိုသံကိုပယ်ရှားကြလော့၊ တယော
၂၄ ထိုးသံကို ငါနားမထောင်။— တရားသဖြင့် စီရင်
ခြင်းကို ရေကဲ့သို့၎င်း၊ ဖြောင့်မတ်ခြင်းကို မပြတ်
၂၅ စီးသော မြစ်ရေကဲ့သို့၎င်း စီးစေကြလော့။— ဣ
သရေလအမျိုး၊ သင်တို့သည် ယဇ်နှင့်ပူဇော်
သကာရှားကိုတော၌ အနှစ်လေးဆယ်ပတ်လုံး
၂၆ ငါ့အားပူဇော်ကြသလော။— သင်တို့ဘုရားမော
လုပ်၏တဲနှင့်သင်တို့ဘုရားမိချုန်၏ကြယ်တည်း
ဟူသော ကိုယ်အဖို့ လုပ်သော ရုပ်တုကို ဆောင်
၂၇ ခဲ့ကြပြီတကား။— ထိုကြောင့်သင်တို့ကိုဒမာ
သက်မြို့တစ်ဘက်သို့သိမ်းသွားစေခြင်းငှါ ငါစီရင်
မည်ဟု၊ ကောင်းကင်ဗိုလ်ခြေအရှင်ဘုရားသခင်
တည်း၍ ဘွဲ့နာမရှိသော ထာဝရ ဘုရား မိန့်တော်
မူ၏။

## ၆

၁ ဇိအုန် မြို့၌ ငြိမ်ဝပ်စွာ နေသော သူ၊ ရှမာရိ
တောင်ပေါ်မှာ မှီခိုခြင်းနှင့် ကျေလွတ်လျှက်
နေသောသူ၊ လူမျိုးတို့တွင် အထွဋ်အမြတ် တူ၍
ခေါင်ဝေါင်သောသူ၊ ဣသရေလအမျိုး ဆည်းကပ်
၂ သောသူတို့သည်အမင်္ဂလာရှိကြ၏။— ကာလနေ
မြို့သို့သွား၍ ကြည့်ရှုကြလော့၊ ထိုမြို့မှ ထာမတ်
ကြီးမြို့သို့၎င်း၊ ဖိလိတ္တိလူတို့နေသော ဂါသမြို့

ရှင် သွားကြလော့။ ထိုနိုင်ငံတို့သည် ဤနိုင်ငံ တို့
ထက်သာ၍ကောင်းသလော။ သူတို့နယ်အပိုင်း
အခြား သည် သင်တို့နယ် အပိုင်း အခြား ထက်
၃ သာ၍ကျယ်သလော။- ဆိုးထုတ်သော နေ့ရက်
ကိုရွှေ့၍၊ မတရားသဖြင့်စီရင်ရာပလ္လင်ကိုအနီး
၄ မှာထားစေခြင်း၊- ဆင်စွယ်ခုတင်ပေါ်မှာအိပ်၍
နွေရာ ပေါ်မှာ လျောင်းခြင်း၊ သိုးစုထဲကသိုးသ
ငယ်တို့ကိုလည်း၊ နွားတင်းကုပ်ထဲက နွားသငယ်
၅ တို့ကိုလည်းယူ၍ စားခြင်း၊-တယောထိုးသံ နှင့်ပြိုင်
လျက်သီခြင်းဆိုခြင်း၊တီးမှုတ်ရာတန်ဆာမျိုးအ
ထက်ကို ဒါဝိဒ်မင်းရှာ၍ လုပ်သကဲ့သို့လုပ်ခြင်း၊-
၆ စပျစ်ရည်ကိုဖလားနှင့်သောက်၍၊ အဘိုးထိုက်
သော နံ့သာဆီနှင့် လိမ်းခြင်းတို့ကိုပြု၍၊ ယော
သပ်အမျိုးဆင်းရဲခံရသည်ကိုစိတ်မကြွင်နာဘဲ
၇ နေသော၊- ထို သူတို့သည် အဦးဆုံး သိမ်းသွား
ခြင်းကိုခံရသောသူတို့နှင့်အတူပါသွားကြလိမ့်
မည်။လျောင်း၍နေသောသူတို့၏ ပွဲသည်လည်း
ကွယ်ပျောက်ရလိမ့်မည်။
၈ ကောင်းကင်ဗိုလ်ခြေ အရှင် ဘုရားသခင် ထာ
ဝရဘုရား မိန့်တော်မူသည်ကား၊ အရှင်ထာဝရ
ဘုရားသည်ကိုယ်ကိုတိုင်တည်၍ကျိန်ဆိုတော်မူ
သည်အတိုင်း၊ယာကုပ်၏မာနကိုငါရွံရှာ၍ သူ၏
ဘုံဗိမာန်တို့ကိုမုန်းသောကြောင့်၊ မြို့တော်နှင့်
၉ မြို့၌ ရှိသမျှကို ငါစွန့်ပစ်မည်။- အိမ် တဆောင်
တွင် လူတကျိပ် ကျန်ကြွင်းသော်လည်း သေကြ
၁၀ လိမ့်မည်။-ပေါက်ဖော်တော်၍မီးဖြင့်သင်းပြုပ
ရသော သူသည် အိမ် ထဲက အ သေ ကောင် ကို
ထုတ်၍ ပို့သွားသောအခါ၊ အိမ်အတွင်းတွင်ရှိ
သော သူကိုခေါ်၍၊ သင်၌ တစုံတယောက် ကျန်
ကြွင်းသေးသလောဟု မေးသော်၊ မကျန်ကြွင်း
ဟု ပြန်ပြော လိမ့်မည်။ ထမ်းသွား သော သူက
လည်း၊တိတ်ဆိတ်စွာနေလော့၊ထာဝရဘုရား၏
နာမတော်ကို မြီးမွမ်းရသောအခွင့်မရှိဟု ပြော
၁၁ ဆိုလိမ့်မည်။-အကြောင်းမူကား၊ထာဝရဘုရား
အမိန့်တော်ရှိသဖြင့်၊အိမ်ကြီးကိုဖြို၍ အိမ်ငယ်
၁၂ ကိုလည်း ကွဲစေတော်မူလိမ့်မည်။- မြင်း သည်
ကျောက် ပေါ်မှာ ပြေး တတ် သ လော။ လူ သည်
ကျောက်ပေါ်မှာနွားနှင့်ထွန်တတ်သလော။ သင်
တို့သည် တရားသဖြင့်စီရင်ခြင်းကို ခါးစွာသော
သစ် ရွက် ဖြစ်စေခြင်းငှါလည်း၊ ဖြောင့်မတ်ခြင်းကို
ဒေါနရွက်ဖြစ်စေခြင်းငှါလည်း ပြုကြသည်တကား။-
၁၃ အချည်း နှီးသော အရာ၌ ဝါကြွား ဝမ်းမြောက်

၍၊ ငါတို့သည်ကိုယ်အစွမ်းသတ္တိအားဖြင့်အခေ
ကာကို သိမ်းယူပြီမဟုတ်လောဟု ဆိုတတ်ကြ
၁၄ သည်တကား။-အကယ်စင်စစ်ဣသရေလအ
မျိုး၊ သင်တို့တဖက်၌လူတမျိုးကိုငါထစေ၍၊ ထို
လူမျိုးသည် ဟာမတ်မြို့ထမ်းဝမှစ၍ တော၌ ရှိ
သောမြစ်တိုင်အောင် သင်တို့ကို ညှဉ်းဆဲ လိမ့်
မည်ဟု၊ ကောင်းကင်ဗိုလ်ခြေအရှင်ဘုရားသခင်
ထာဝရဘုရားမိန့်တော်မူ၏။

၇

၁ တဖန်အရှင်ထာဝရဘုရားသည် ငါ့အားပြတော်
မူ သော ရူပါရုံ ဟူမူကား၊ ရှင်ဘုရင် ဆိုင် သော
မြက်ပင်ကို ရိတ်ပြီးမှ၊ နောက်မြက်ပင် ပေါက်စ
ကာလ၌ ကျိုင်းကောင်တို့ကိုဖန်ဆင်းတော်မူ၏။-
၂ ထိုကျိုင်းကောင် တို့သည် တပြည်လုံး၌ ရှိသော
မြက်ပင်ကိုစား၍ ကုန်ပြီးမှ ငါက၊ အိုအရှင်ထာ
ဝရ ဘုရား၊ အပြစ်မှ လွှတ်တော်မူပါ။ ယာကုပ်
သည် ငယ် သော ကြောင့်၊ အဘယ် သို့ ထရပါ
၃ လိမ့်မည်နည်းဟုလျှောက်သော်၊-ထာဝရဘုရား
သည် နောင်တရ၍ ဤသို့ မဖြစ်ရဟု မိန့်တော်မူ
၄ ၏။- တဖန် အရှင်ထာဝရဘုရားသည် ငါ့အားပြ
တော်မူသောရူပါရုံဟူမူကား၊ မီးဖြင့်စီရင်စေ
ခြင်းငှါမီးကို ခေါ်တော်မူ၍၊ မဟာသမုဒ္ဒရာကို
မီးလောင်လေ၏။ကုန်းကိုလည်းလောင်လေ၏။-
၅ ငါကလည်း၊ အိုအရှင်ထာဝရဘုရား၊ ဆိုင်းတော်
မူပါ။ယာကုပ်သည်ငယ်သောကြောင့်အဘယ်
၆ သို့ထရပါလိမ့်မည်နည်းဟု လျှောက်သော်၊-အ
ရှင်ထာဝရဘုရားသည် နောင်တရ၍ ဤသို့မဖြစ်
၇ ရဟုမိန့်တော်မူ၏။-တဖန်ပြတော်မူသောရူပါရုံ
ဟူမူကား၊ ကြိုးကြိုးချ၍ လုပ်သော ကျောက်မြို့
ပေါ်မှာ ထာဝရ ဘုရား သည် ရပ် လျက်၊ လက်
၈ တော်၌ ကြိုးကြိုးကိုကိုင်လျက်၊- အာမုတ်၊ သင်
သည်အဘယ်အရာကိုမြင်သနည်းဟု မေးတော်
မူလျှင်၊ ကြိုး ကြိုး ကို မြင်ပါ သည် ဟု လျှောက်
သော်၊ဘုရားရှင်က၊ငါ၏လူဣသရေလအမျိုးအ
ထယ်၌ကြိုးကြိုးကိုငါချမည်။နောက်တဖန်သူတို့
၉ ကိုသည်းမခံ။-ဣဇာက်၏မြင့်ရာအရပ်တို့သည်
လူဆိတ်ညံလျက်၊ ဣသရေလ၏ သန့်ရှင်းရာအ
ရပ်တို့သည် ထုတ်သင်ပယ်ရှင်းလျက် ရှိကြလိမ့်
မည်။ ယေရောဗောင်မင်းမြို့ကို လည်း ထားနှင့်
ငါတိုက်မည်ဟုမိန့်တော်မူ၏။
၁၀ ထိုအခါ ဗေသလ ယဇ် ပုရောဟိတ် အာမဇိ
သည်ဣသရေလ ရှင်ဘုရင်ယေရောဗောင်ထံသို့

ဆွေးတွက်၍၊ အာမုတ်သည် ဣသရေလအမျိုးအ
ထဲ၌ ကိုယ်တော်တဘက်၌ မကောင်းသော
အကြံကိုကြံစည်ပါပြီ။ သူ၏စကားအလုံးစုံတို့
၁၁ ကိုပြည်တော်သည် မခံနိုင်ပါ။- ယေရောဗောင်
သည် ထားဖြင့် သေရလိမ့်မည်၊ ဣသရေလ အ
မျိုးသားတို့သည် နေရင်းပြည်မှ ထက်ဆက်နှင်
သွားခြင်းကို ခံရကြ လိမ့်မည်ဟု၊ အာမုတ် ဆို
၁၂ တော်ပါသည်ဟု လျှောက် လေ၏။- အာမုတ်ကို
လည်း ခေါ်၍၊ အိုပရောဖက်၊ ယုဒ ပြည်သို့ ပြေး
သွားလော့၊ ထိုပြည်မှာပရောဖက်ပြု၍ အသက်
၁၃ မွေးလော့။- နောက်တဖန် ဗေသလမြို့ တခါ၌
ပရောဖက်မပြုနှင့်၊ ရှင်ဘုရင်၏သန့်ရှင်းရာ ဌာန
တော်ဖြစ်၏၊ နန်းတော်တည်ရာ မြို့လည်းဖြစ်၏
၁၄ ဟု ဆိုလျှင်၊- အာမုတ်က၊ ငါသည်ပရောဖက်မ
ဟုတ်၊ ပရောဖက်၏သားလည်းမဟုတ်သဲ၊ နွား
ကျောင်းသော သူ၊ သဖန်းသီးကို ဆွတ်သောသူ
၁၅ ဖြစ်စဉ်အခါ၊- ထာဝရဘုရားသည် နွားကျောင်း
ရာမှ ငါ့ကိုနှုတ်ယူ၍၊ သင်သွားလော့၊ ငါ၏လူ ဣ
သရေလ အမျိုး၌ သွင်း ပရောဖက် ပြုလော့ဟု မိန့်
၁၆ တော်မူ၏။- သို့ဖြစ်၍၊ ထာဝရ ဘုရား၏ အမိန့်
တော်ကို နားထောင်လော့၊ ဣသရေလအမျိုးတ
ဘက်၌ပရောဖက်မပြုနှင့်၊ ဣဇာက်အမျိုးတဘက်
၁၇ ၌စကားမမြွက်နှင့်ဟုသင်ဆိုသော်၊- ထာဝရဘုရားမိန့်
တော်မူသည်ကား၊ သင်၏မယားသည်ပြည်တန်
ဆာဖြစ်လိမ့်မည်၊ သင်၏သားသမီးတို့သည်ထား
ဖြင့်သေကြလိမ့်မည်၊ သူတပါးတို့သည် သင်၏
မြေကို ကြိုးတန်းချ၍ ဝေဝနကြလိမ့်မည်၊ သင်
သည် ညစ်ညူးသော ပြည်၌ သေရလိမ့်မည်၊ ဣ
သရေလအမျိုးသည် နေရင်းပြည်မှ ဆက်ဆက်
နှင် သွားခြင်းကို ခံရကြ လိမ့်မည်ဟု၊ အာမုတ်
အားဆင့်ဆိုလေ၏။

၈

၁ တဖန် အရှင်ထာဝရ ဘုရားသည် ငါ့အားပြ
တော်မူသောရူပါရုံတွင်၊ နွေကာလအသီး
၂ ပါသော တောင်းသည် ထင်ရှား၏။- အာမုတ်
သင်သည် အဘယ်အရာကို မြင်သနည်းဟု မေး
တော်မူလျှင်၊ နွေကာလအသီးပါသောတောင်း
ကို မြင်ပါသည်ဟု ငါလျှောက် သော်၊ ထာဝရ
ဘုရားက၊ နောက်ဆုံးကာလသည် ငါ၏လူ ဣသ
ရေလအမျိုး၌ရောက်လေပြီ၊ နောက်တဖန်သူတို့
၃ ကိုသည်းမခံ၊- ထိုကာလ၌ နန်းစည်းကခြေသည်
တို့သည် မြည်တမ်းကြလိမ့်မည်၊ အရပ်ရပ်တို့
၌ အလောင်းအများတို့ကို ဆိတ်ဆိတ် ပစ်ထုတ်
ကြလိမ့်မည်ဟု၊ အရှင်ထာ
၄-၅ ဝရဘုရား မိန့်တော်မူ၏။- ငါတို့သည် ပေါ်းကို
ရောင်းစားသော ဌါ လဆန်းနေ့ လွန်ပါစေ၊ ဂျုံကို
ရောင်းစားသော ဌါ ဥပုသ်နေ့ လွန် ပါစေ ဟု ဆို
လျက်၊ စရေးတောင်းကို ငယ်စေခြင်း ဌါ ငှာ၊ ကျပ်
ချိန်ကိုကြီးစေခြင်းငှါငှင်လှုပ်၍၊ စည်းစားသော
ချိန်ခွင်ကို သုံးလျက် ဆင်းရဲသောသူကို ငွေနှင့်
ငှင်၊ငတ်မွတ်သောသူကိုခြေနင်းတရံနှင့်ငှင်ဝယ်
၍၊ ညှို့သော ဂျုံဆန်ကို ရောင်းလျက်၊ ငတ် မွတ်
သောသူတို့ကိုနှိပ်နင်း၍ ဆင်းရဲ သောပြည်သား
တို့ကိုဖြတ်ခြင်းငှါ အလွန်အလိုကြီးသောသူတို့၊
ဤစကားကိုနားထောင်ကြလော့။
၇ ထာဝရဘုရားသည် ယာကုပ်၏ ဘုန်းကိုတိုင်
တည်၍ ကျိန်ဆိုတော်မူသည်ကား၊၊ အကယ်စင်
စစ်သူတို့ကျင့်ကြံပြုမူသမျှတို့ကို ငါသည်အစည်
၈ မမြတ် မနေ့ လျော့။- ထိုအပြစ် ကြောင့် မြေတုန်
လှုပ်လိမ့်မည် မဟုတ်လော၊ မြေသားအပေါင်း
တို့သည်ညည်းတွားကြလိမ့်မည် မဟုတ်လော၊
မြစ်ကဲ့သို့တပြည်လုံးတကြီးလျှံ၊တဖန်အဲဂုတ္တု
မြစ်၌ မြုပ်သကဲ့သို့ ပါသွား၍ မြုပ်လိမ့် မည်မ
၉ ဟုတ်လော၊- အရှင်ထာဝရ ဘုရား မိန့်တော်မူ
သည်ကား၊ ထိုကာလအခါ မွန်းတည့်အမှိန်၌ငါ
သည် နေကို ဝင်စေမည်၊ ကြည်လင် သော နေ့၌
၁၀ မြေကြီးကို မိုက် စေမည်၊- သင်တို့ ပွဲခံခြင်းကို
ညည်းတွားခြင်း ဖြစ်စေမည်၊ သီခြင်း ဆိုခြင်းရှိ
သမျှကိုငိုကြွေးခြင်းဖြစ်စေမည်၊လူအပေါင်းတို့
သည် လျှော်တေအဝတ်နှင့် ခါးကိုစည်း စေခြင်း
ငှါငှင်၊ဆံပင်ကိုရိတ်စေခြင်းငှါ ငှင်ငါစီရင်မည်၊
တယောက်တည်းသော သားသေသည် အတွက်
မြည်တမ်းခြင်းကဲ့သို့ငှင်၊ အဆုံး၌ ခါးစွာသော
နေ့ကဲ့သို့ငှင်ငါဖြစ်စေမည်။
၁၁ အရှင်ထာဝရ ဘုရား မိန့်တော်မူသည် ကား၊
မွတ်သိပ် ခြင်းဘေးကို တပြည် လုံး၌ ငါ ဖြစ်စေ
သောကာလ ရောက်လိမ့်မည်၊ အစာ ခေါင်းပါး
၍ မွတ်သိပ်ခြင်းဘေးမဟုတ်၊ ရေငတ်ခြင်းဘေး
လည်းမဟုတ်၊ထာဝရဘုရား၏အမိန့်တော်ကိုမ
ကြားရသော မွတ်သိပ်ခြင်းဘေးဖြစ်လိမ့်မည်။-
၁၂ သူတို့သည် ထာဝရဘုရား၏ အမိန့်တော်ကို ရှာ
လျက်၊ ပင်လယ်တပါးမှ သည် ပင်လယ် တပါး
တိုင်အောင်၎င်း လည်း၍၊ တောင်မြောက် ပြေး
၁၃ သွားသော်လည်း မတွေ့ရကြ။- ထိုကာလ၌ အ

ဆင်းရဲ သော သတို့သမီးကညာများနှင့် လုလင်
၁၄ များတို့သည်ရေငတ်၍မောကြလိမ့်မည်။-ရှမာ
ရိ အပြစ်ကို တိုင်တည်၍ ကျိန်ဆိုသောသူ၊ ဖို
ဒန်၊ သင်၏ဘုရား အသက် ရှင်တော်မူသည် အ
တိုင်းဟူ၍၎င်း၊ ဗေရရှေဘအာသာအသက်တည်
သည် အတိုင်း ဟူ၍၎င် ဆိုသော သူတို့ သည်၊
နောက်တဖန် မထနိုင်အောင်လဲ၍ နေရကြ လိမ့်
မည်ဟုမိန့်တော်မူ၏။

၉

၁ တဖန်ငါကြည့်ရှု၍ဘုရားရှင်သည်ယဇ်ပလ္လင်
ပေါ်မှာ ရပ်လျက် မိန့်တော်မူသည်ကား၊ မှိုသမှု
သောသူတို့၏ခေါင်းပေါ်သို့ တံခါးတိုင်တွေ့ပ်၍ပြို
ကျစေခြင်းငှါ တံခါး ထုပ်ကို ရိုက်လော့။ သူတို့
သား မြေးများကိုလည်း ထားနှင့် ငါ ကွပ်မျက်
မည်။ပြေးသောသူသည်မလွတ်ရ။ လွတ်သော
၂ သူသည်လည်းချမ်းသာကိုမတွေ့ရ။-မရဏာနိုင်
ငံ တိုင်အောင် တွင်းတူးသော်လည်း ငါနှုတ်ယူ
မည်။ မိုဃ်းကောင်းကင် သို့ တက်သော်လည်း
၃ ငါချမည်။- ကရမေလ တောင်ထိပ်၌ ဝှန်းရှောင်
သော်လည်း၊ ငါရှာ၍ထုတ်မည်။ ငါနှင့်လွတ်အံ့
သောငှါ သမုဒ္ဒရာ အောက်၌ ဝှန်း ရှောင် သော်
လည်း၊ ငါသည်နဂါးကိုမှာလိုက်၍ ကိုက်စေ
၄ မည်။- ရန်သူတို့သည် သိမ်းသွားသော်လည်း၊
အခြားသောအရပ်၌ငါသည်ထားကို မှာထိုက်
၍သတ်စေမည်။ ကျေးဇူးမပြု၊ အပြစ်ပြုခြင်းငှါ
၅ သာငါကြည့်ရှုမည်။-ကောင်းကင်ဗိုလ်ခြေအရှင်
ဘုရားသခင်ထာဝရဘုရားသည်မြေကိုထိတော်
မူလျှင်၊မြေသည်အရည်ဖြစ်၍မြေသားအပေါင်း
တို့သည်ညည်းတွားကြလိမ့်မည်။ မြစ်ကဲ့သို့တ
ပြည်လုံးထပြီးလျှင်၊ တဖန်အဲဂုတ္တုမြစ်၌ မြုပ်
၆ သကဲ့သို့ မြုပ်လိမ့်မည်။- အထက်အခန်းတော်
တို့ကိုကောင်းကင်၌ ဆောက်၍၊ အောက်တိုက်
တော်ကိုမြေကြီးပေါ်မှာတည်တော်မူ၏။သမုဒ္ဒရာ
ရေကို ခေါ်၍ မြေကြီးပြင်၌ သွန်းသောင်း တော်
မူ၏။ ကောင်းကင် ဗိုလ် ခြေ အရှင် ဘုရား သခင်
ထာဝရဘုရားတည်းဟူသော ဘွဲ့နာမရှိတော်မူ
၇ ၏။- ဖို ဣသရေလ အမျိုးသားတို့၊သင်တို့သည်
ငါ၌ ကုရှအမျိုးသားတို့ကဲ့သို့ ဖြစ်ကြသည်မဟုတ်
သလော။ ဣသရေလအမျိုးကို အဲဂုတ္တုပြည်မှ ၎င်း၊
ဖိလိတ္တိလူတို့ကိုကဗ္ဗောရ
ပြည်မှ၎င်း၊ ရှုရိလူတို့ကို ကိရပြည်မှ၎င်း ငါနှုတ်
ဆောင်ပြီ မဟုတ် လောဟု၊ ထာဝရ ဘုရား မိန့်
၈ တော်မူ၏။-အရှင်ထာဝရဘုရားသည် အပြစ်ရှိ
သောတိုင်းနိုင်ငံကိုကြည့်ရှုလျက်၊ထိုတိုင်းနိုင်ငံ
ကိုမြေကြီးပြင်မှ ငါသုတ်သင်ပယ်ရှင်းမည်။ သို့
သော်လည်း၊ ယာကုပ်အမျိုးကိုရှင်းရှင်းမဖျက်
၉ ဆီးဟုမိန့်တော်မူ၏။- တဖန် ငါအမိန့်တော်ရှိသ
ဖြင့်ဆန်ကိုဆန်ခါနှင့် ချသကဲ့သို့၊ ဣသရေလ အ
မျိုးကို ခပ်သိမ်းသောအမျိုးတို့တွင် ဆန်ခါနှင့်
၁၀ ငါ ချမည်။ ဆန်တစေ့မျှ မြေသို့ မကျရ။- ဘေး
ဥပါဒ်သည်ငါတို့ကိုမမှီနိုင်၊ မဆီးတားနိုင်ဟု
ဆိုလျက်၊ အပြစ်များ သော ငါ၏လူအပေါင်းတို့
သည် ထားဖြင့်သေရကြလိမ့်မည်။
၁၁ ကျန်ကြွင်းရစ်သော ဧဒုံအမျိုးသားများ၌ ငါ
၁၂ ၏ နာမဖြင့် သစ္စာ သော တပါး အမျိုး သား အ
ပေါင်း တို့ကို သိမ်း ယူ စေ ခြင်း ငှါ၊ ထဲလျက် ရှိ
သောဒါဝိဒ်၏ထဲကိုထိုကာလ၌ငါဆောက်တည်
ပြန်မည်။အက်ကွဲရာများကိုစေ့စပ်မည်။ ပြိုပျက်
ရာများ ကိုလည်း ပြုပြင်ပြီးလျှင်၊ ထိုထဲကို ရှေး
ကာလ၌ရှိသကဲ့သို့မတ်စေပြန်မည်ဟု၍ အမှုအ
ရာကိုစီရင်တော်မူသောထာဝရဘုရား၏ဗျာဒိတ်
၁၃ တော်ရှိ၏။-ထာဝရဘုရားမိန့်တော်မူသည်ကား၊
ထယ်ထွန်သောသူသည် စပါးရိတ်သော သူကို
၎င်း၊ စပျစ်သီးနယ်သောသူသည် မျိုးစေ့ကြဲသော
သူကို၎င်မှီလျက်၊တောင်တို့မှချိုသောစပျစ်ရည်
ယို၍၊ကုန်းရှိသမျှတို့လည်း အရည်ဖြစ်ရသော
၁၄ ကာလရောက်လိမ့်မည်။- သိမ်းသွားခြင်းကို ခံ
ရသောငါ၏လူ ဣသရေလ အမျိုးသားတို့ကို တ
ဖန်ငါဆောင်ခဲ့သဖြင့်၊ သူတို့သည်ပျက်စီးသော
မြို့များကို ပြုပြင်၍နေကြလိမ့်မည်။ စပျစ်ဥယျာဉ်
များကို စိုက်၍ စပျစ်ရည်ကို သောက် ကြလိမ့်
မည်။ ထယ်ယာများကိုပြုစု၍ အသီးတို့ကို စား
၁၅ ကြလိမ့်မည်။- သူတို့ကိုနေရင်းအရပ်၌ ငါစိုက်
ထားမည်။ ငါပေးသောပြည်မှ နောက်တဖန် အ
ထယ်သူမျှမနှုတ်ရဟု၊ သင်၏ ဘုရားသခင် ထာ
ဝရဘုရားမိန့်တော်မူ၏။

ပရောဖက်အာမုတ်စီရင်ရေးသားသောအနာဂတ္တိကျမ်းပြီး၏။

# ဩဗဒိယာဒိတ်ရူပါရုံ
# OBADIAH.

၁

၁ အရှင်ထာဝရဘုရားသည် ဧဒုံပြည်ကို ရည်
မှတ်၍ မိန့်တော်မူသည် ကား၊ ထာဝရဘုရား
ကျေးကြော်တော်မူသံကိုငါတို့သည်ကြားကြ၏။
သင်တို့ထ၍ ဧဒုံပြည်ကို တိုက်ခြင်းငှါ စစ်ပြိုင်ကြ
သော်ဟု၊တပါးအမျိုးသားတို့ထံသို့သံတမန်ကို
၂ စေလွှတ်တော်မူပြီ။- သင့်ကို တပါး အမျိုးသား
တို့တွင်ယုတ်မာစေခြင်းငှါငါစီရင်သဖြင့်၊သင်၏
အသရေသည် အလွန်ရှုတ်ချခြင်းရှိလိမ့်မည်။-
၃ ကျောက်ကြားတို့၌ နေ၍ မြင့်သောအရပ်ကို မှီ
ဝဲ့လျက်၊ ငါ့ကို မြေသို့ အဘယ်သူ နှိမ့်ချ နိုင်သ
နည်းဟု အောင်းမေ့သောသူ ဖြစ်သော့ကြောင့်၊
၄ သင်၏မာနသည်သင့်ကိုလှည့်စားပြီ။- သင်သည်
လင်းတကဲ့သို့ ကိုယ်ကို ချီးမြှောက်၍၊ ကြယ်
တို့တွင်အသိုက်ကိုလုပ်သော်လည်း၊ ထိုအရပ်မှ
သင့်ကိုငါနှိမ့်ချမည်ဟု၊ ထာဝရဘုရားမိန့်တော်
၅ မူ၏။-ညဥ့်အခါသူခိုးထားပြတို့သည်သင်ရှိရာ
သို့လာလျှင်၊ စိတ်ပြေလောက်အောင်သာခိုးယူ
ကြ လိမ့်မည် မဟုတ်လော။ စပျစ်သီးကို ဆွတ်
သောသူတို့သည်လာလျှင်၊သူတပါးလိုက်၍ဆွတ်
၆ စရာတို့ကြွင်းစေကြလိမ့်မည်မဟုတ်လော။-သင်
သည်အလွန်ပျက်စီးပြီတကား။ဧသောသည်အ
လွန် အစစ် ခံရပြီ တကား။ သူ ဝှက် ထား သော
၇ ဥစ္စာကို အလွန် ရှာဖွေကြသည် တကား။- သင်
နှင့် မိဿဟာယ ဖွဲ့သော သူ အပေါင်း တို့သည်
ပြည်စွန်းသို့ နှင်ကြပြီ။ အဆွေ လုပ်သော သူတို့
သည်သင့်ကို လှည့်စား၍ နိုင်ကြပြီ။ သင်နှင့် အ
တူစားသောက်သောသူတို့သည် သင့်အောက်၌
ကျော့ကွင်းကိုထောင်ထားကြပြီ။ သင်၏ညဏ်
၈ ပညာကုန်ပြီ။- ထာဝရဘုရား မိန့် တော်မူသည်
ကား၊ထိုကာလ၌ဧဒုံပြည်မှပညာရှိတို့ကိုရင်၊ ဧ
သော၏တောင်မှညာဏ် ကောင်းသော သူတို့ကို
၉ ငါပယ်ရှားမည်။- တိုတေမန်မြို့၊ ဧသော၏
တောင်မှခပ်သိမ်းသောသူတို့ကို ပယ်ဖြတ်မည်
အကြောင်း၊ သင်၏ သူရဲ တို့သည် ကြောက် ကြ
လိမ့်မည်။

၁၀ သင်သည်ညီယာကုပ်ကိုအသေသတ်ခြင်း၊အ
နိုင်အထက်ပြုခြင်း အပြစ်ကြောင့် ကိုယ်တိုင်အ
ရှက်ကွဲ၍၊ အကုန်အစင် ပယ် ဖြတ်ခြင်းကို ခံရ
၁၁ လိမ့်မည်။- သင်သည်တဖက်၌ နေသောနေ့၊ တ
ကျွန်းတနိုင်ငံသားတို့သည်သူ၏ အမှုထမ်း များ
ကို သိမ်းသွားသောနေ့၊ တပါး အမျိုးသား တို့
သည်သူ၏ မြို့တံခါးထဲသို့ ဝင်၍ ယေရု ရှလင်မြို့
ကိုစာရေးတံချသောနေ့၌သင်သည်လက်ခံသော
၁၂ သူဖြစ်၏။-သင်၏ညီသည်တပါးအမျိုးသားဖြစ်
သောနေ့၌သူ၏အမှုကိုသင်မကြည့်သင့်။ယုဒအ
မျိုးသားတို့သည် ပျက်စီးသော နေ့၌ မဝါကြွား
သင့်။ ဒုက္ခခံရသောနေ့၌ စော်ကားသော စကား
၁၃ ကိုမပြောသင့်။-ငါ၏လူတို့သည်ဘေးဥပါတ်ကို
ခံရသောနေ့၌သူတို့နေရာတံခါးအတွင်းသို့မဝင်
သင့်။ဘေးဥပါတ်ကိုခံရသောနေ့၌ သူတို့၏ဆင်း
ရဲဒုက္ခကို မကြည့်မရှုသင့်။ ဘေးဥပါတ်ကို ခံရ
၁၄ သောနေ့၌ သူတို့ ဥစ္စာကို မလုမယူသင့်။- လွတ်
သော သူတို့ကို ဆီးတားခြင်းငှါ ဖြတ်လမ်း၌ မ
ရပ်မနေသင့်။ အမှုရောက်သောနေ့၌ ကျန်ကြွင်း
၁၅ သောသူတို့ကို မအပ်သင့်။- အကြောင်းမူကား၊
ထာဝရဘုရား၏နေ့ရက်သည်ခပ်သိမ်းသောလူ
မျိုးတို့နှင့်နီးပြီ။ သင်ပြုသည်အတိုင်း သင်၌ သူ
တပါးပြုလိမ့်မည်။ သင်ပြုသောအမှုသည် သင့်
၁၆ ခေါင်းပေါ်သို့ ရောက်ရလိမ့်မည်။- ယုဒ အမျိုး
သားတို့သည် သန့်ရှင်း သော ငါ့တောင် ပေါ်မှာ
စားသောက်သကဲ့သို့၊ပတ်လည်၌နေသောလူမျိုး
အပေါင်းတို့သည် စားသောက် ရကြလိမ့်မည်။
စားသောက် ၍ မျိုသဖြင့် မရှိဘူးသော သူ ကဲ့သို့
ဖြစ်ရကြလိမ့်မည်။

၁၇ ဇိအုန် တောင်ပေါ်မှာ ဘေးလွတ်သော သူ အ
ရှိ ရှိကြလိမ့်မည်။သန့်ရှင်းသောအရပ်ဖြစ်လိမ့်
မည်။ ယာကုပ် အမျိုးသည် မိမိ ပိုင်ထိုက် သော
၁၈ မြေကိုပိုင်ရလိမ့်မည်။-ယာကုပ်အမျိုးသည်မီး၊
ယောသပ် အမျိုး သည် မီးလျှံ၊ ဧသော အ မျိုး
သည်အမှိုက်ဖြစ်လျက်မီးညှိ၍လောင်သဖြင့်၊ ဧ
သောအမျိုးသားမကျန်ကြွင်းရ။ ထာဝရဘုရား

၁၉ မိန့်တော်မူပြီ။- တောင်မျက်နှာသားတို့သည် ဧ
သော၏တောင်ကိုရင်၊ မြေညီသောအရပ်သားတို့
သည် ဖိလိတ္တိပြည်ကိုရင်၊ ဧဖရိမ် လယ်ပြင်နှင့်
ရှမာရိ လယ်ပြင်ကိုရင်၊ ဗင်္ယာမိန် အမျိုးသည်
၂၀ ဂိလဒ်ပြည်ကိုရင်သိမ်းယူကြလိမ့်မည်။- သိမ်း
သွားခြင်းကိုခံရ၍၊ ခါနနိလူတို့တွင် ရှိသော ဣ
သရေလ အမျိုး အလုံး အရင်း သည် ဇရဖတ် မြို့
တိုင်အောင်ရင်၊ သိမ်းသွားခြင်းကိုခံရ၍ သေဖ
ရဒ်ပြည်၌ရှိသော ယေရုရှလင် မြို့သား တို့သည်
တောင်မျက်နှာ မြို့ရွာတို့ကိုရင် သိမ်းယူကြလိမ့်
၂၁ မည်။- ဧသော၏ တောင်ကို တရားစီရင်ခြင်းငှါ
ကယ်တင်သောသူတို့သည်ဇိအုန်တောင်ပေါ်သို့
တက်ကြလိမ့်မည်။ တိုင်းနိုင်ငံသည်လည်း၊ ထာ
ဝရဘုရား၏နိုင်ငံတော်ဖြစ်လိမ့်သတည်း။

ပရောဖက်ဩဗဒိ၏ဗျာဒိတ်ရူပါရုံ ပြီး၏။

---

# ယောနဝတ္ထု။

## JONAH.

၁

၁ အမိတ္တဲ၏သားယောနသို့ရောက်လာသောထာ
၂ ဝရဘုရား၏နှုတ်ကပတ်တော်ဟူမူကား၊- သင်
ထ၍ နိနေဝေ မြို့ ကြီး သို့ သွား ပြီး လျှင်၊ မြိမ်း
ခြောက်သောစကားနှင့်ကျေးကြော်လော့။ ထိုမြို့
ပြုသော ဒုစရိုက်အပြစ်သည် ငါ့ရှေ့သို့ တက်လာ
၃ ပြီဟုမိန့်တော်မူ၏။-သို့သော်လည်း၊ယောနသည်
ထာဝရ ဘုရားထံတော်မှ တာရှုမြို့သို့ ပြေးမည်
အကြံ ရှိသည်နှင့် ယောပ္ပေ မြို့သို့ သွား၍
ရောက်သဖြင့်၊ တာရှုမြို့သို့ သွားသော သင်္ဘော
ကိုတွေ့ကြုံ၍ သင်္ဘောခကိုပေးပြီးလျှင်၊ထာဝရ
ဘုရားထံတော်မှသင်္ဘောသားတို့နှင့်အတူတာရှု
၄ မြို့သို့လိုက်ခြင်းငှါသင်္ဘောကိုစီးလေ၏၊-ထာဝရ
ဘုရားသည်ထဲဦးပြင်းစွာသောလေကိုပင်လယ်
အပေါ်သို့စေလွှတ်တော်မူသဖြင့်၊ပင်လယ်၌ကြီး
စွာ သော မိုဃ်းသက်မုန်တိုင်း ဖြစ်၍၊ သင်္ဘော
၅ သည် ပျက်လု သော လက္ခဏာ ရှိ၏။- ထို အခါ
သင်္ဘောသားတို့သည်ကြောက်ရွံ့၍အသီးအသီး
မိမိတို့ဘုရားကိုအော်ဟစ်ကြ၏၊သင်္ဘောပေါ့စေ
ခြင်းငှါ ဝန်ရှားကို လည်း ပင်လယ်ထဲသို့ ပြစ်ချ
ကြ၏၊ယောနမူကား၊သင်္ဘောဝမ်းထဲသို့ဆင်း၍
၆ အိပ်ပျော်လျက်နေ၏။-သင်္ဘောသူကြီးသည်လာ
၍၊ ထိုအိပ်ပျော်သောသူ၊ အဘယ်သို့နည်း။ ထ
လော့၊ သင်၏ဘုရားကိုဆုတောင်းလော့၊ ငါတို့
အသက်လွှတ်စေခြင်းငှါထိုဘုရားသည်ငါတို့ကို
အောင်းမေ့အောင်းအောင်းမေ့လိမ့်မည် ဟု ဆို
၇ ၏။-နောက်တဖန်သူတို့က၊ လာကြ။ အဘယ်သူ
၏အပြစ်ကြောင့်ဤအမှုရောက်သည်ကိုငါတို့သိ
ရ မည် အကြောင်း စာရေးတံ ချကြ ကုန် အံ့ ဟု
တိုင်ပင်၍၊စာရေးတံချလျှင် ယောန၌ စာရေးတံ
၈ ကျ၏။-တဖန်သူတို့က၊အဘယ်အပြစ်ကြောင့်ဤ
အမှုရောက်သည်ကို ပြောပါလော့။ သင်ဆောင်
ရွက်သော အမှုကား၊ အဘယ်အမှု နည်း။ သင်
သည် အဘယ် အရပ်က လာသနည်း။ အဘယ်
ပြည်၊ အဘယ်အမျိုးသား ဖြစ်သနည်းဟု မေး
၉ မြန်းကြသော်၊-ငါသည်ဟေဗြဲအမျိုးသားဖြစ်၏၊
ရေမြေကိုဖန်ဆင်း တော်မူသောကောင်းကင်ဘုံ
၏အရှင်ဘုရားသခင်ထာဝရဘုရားကိုကိုးကွယ်
၁၀ သော သူဖြစ်၏ဟု ဆိုလျှင်၊- ထိုသူတို့သည် အ
လွန်ကြောက်ရွံ့၍၊ သင်သည် အဘယ်ကြောင့်
ဤသို့ပြုသနည်းဟုမေးကြ၏။ ယောနသည် ထာ
ဝရဘုရားထံတော်မှ မိမိပြေးကြောင်းကို ဖော်ပြ
သောကြောင့်သူတို့သိကြ၏။
၁၁ ထိုအခါပင်လယ်၌လှိုင်းတံပိုးသည်တိုး၍ထ
သောကြောင့်သူတို့က၊ ငါတို့၌ လှိုင်းတံပိုးငြိမ်း
စေခြင်းငှါ သင့်ကို အဘယ်သို့ ပြုရပါမည်နည်း
၁၂ ဟုမေးကြသော်၊-ငါ့ကိုချီ၍ပင်လယ်ထဲသို့ချပြစ်
ကြလော့။ သို့ပြုလျှင်၊လှိုင်းတံပိုးသည်သင်တို့၌
ငြိမ်းလိမ့်မည်။ ဤပြင်းစွာသော မိုဃ်းသက်မုန်
တိုင်းသည် ငါကြောင့် သာ သင် တို့ အ ပေါ်သို့

ရောယသည်ကိုငါသိ၏ဟုပြန်ပြောသော်လည်း၊-
၁၃ သင်္ဘောသားတို့သည် ကမ်းသို့ ရောက်ဖို့သော
ငှါပင်ပန်းစွာတက်ခတ်ကြ၏၊ သို့ရာတွင်၊သူတို့
တပက်၌လှိုင်းတံပိုးထိုး၍ထသောကြောင့်၊ သူ
၁၄ တို့ သည် မတတ် နိုင် သောအခါ၊- အို ထာဝရ
ဘုရား၊အကျွန်ုပ်တို့သည်တောင်းပန်ပါ၏၊ဤသူ၏
အသက်ကြောင့် အကျွန်ုပ်တို့သည်အကျိုးနည်းမ
ဖြစ်ပါစေနှင့်၊အပြစ်မရှိသောသူ၏အသက်သတ်
သော အပြစ်ကို အကျွန်ုပ်တို့၌ တင်တော်မမူပါ
နှင့်၊အိုထာဝရဘုရား၊ ကိုယ်တော်သည်အလိုရှိ
တော်မူသည် အတိုင်း ပြုတော်မူ၏ဟု၊ ထာဝရ
၁၅ ဘုရားအားကျူးကြော်တောင်းပန်ပြီးမှ၊-ယော
နကိုချီ၍ပင်လယ်ထဲသို့ချပြစ်ကြ၏၊ ထိုအခါပင်
လယ် လှိုင်း တံပိုး သည် ငြိမ်းလေ၏၊- သင်္ဘော
သားတို့သည်လည်း ထာဝရ ဘုရားကို အလွန်
ကြောက်ရွံ့သ ဖြင့် ယဇ်ပူဇော် ၍ သစ္စာ ဂတိ
ထားကြ၏၊
၁၇ ယောနကို မျို စေခြင်း ငှါ ငါးကြီးကို ထာဝရ
ဘုရား ခန့်ထား တော်မူသည် နှင့်အညီ၊ ယောန
သည်ငါး၏ဝမ်းထဲမှာသုံးရက်ပတ်လုံးနေရ၏၊

ငါး၏ဝမ်းထဲမှာနေစဉ်တွင်၊ယောနသည်မိမိ
ဘုရားသခင် ထာဝရဘုရားကို ဆုတောင်းသော
၂ စကားဟူမူကား၊- ငါသည် ဒုက္ခဆင်းရဲ ကို ခံရ
သောကြောင့်၊ ထာဝရဘုရားကို ဟစ်ခေါ်၍ ငါ
စကားကိုကြားတော်မူ၏၊ မရဏာနိုင်ငံ၏ဝမ်းထဲ
ကဟစ်ခေါ်ငိုသော စကားသံကို နားထောင်တော်
၃ မူ၏၊-ကိုယ်တော်သည်အကျွန်ုပ်ကိုနက်နဲသော
အရပ်၊ သမုဒ္ဒရာအထယ်ချက်ထဲသို့ချပြစ်တော်
မူသဖြင့်၊ ပင်လယ်ရေသည် ဝိုင်း၍ လှိုင်း တံပိုး
၄ တော်ရှိသမျှတို့သည်လွှမ်းမိုးကြပါ၏၊- ထိုသို့
မျက်မှောက်တော်မှ နှင်ထုတ်ခြင်းကို ခံရသော်
လည်း၊ သန့်ရှင်းသော ဗိမာန် တော် ကို မျက်
မှောက်ပြု၍ ပြုပါမည်ဟု အောင်းမေ့လျက် နေ
၅ ၏၊- ရေတို့သည် အကျွန်ုပ် အသက်ကို သေစေ
ခြင်းငှါဝိုင်းသဖြင့်၊ အကျွန်ုပ်သည် ပင်လယ် အ
ထယ်၌အချုပ်ခံရပါ၏၊ ပင်လယ်မြက်ပင်သည်
အကျွန်ုပ် ခေါင်းကို ပေါင်းစည်းလျက် ရှိပါ၏၊-
၆ တောင်ခြေရင်း အမြစ်သို့ အကျွန်ုပ်ဆင်း၍၊ မြေ
ကန့်လန့်ကျင်အတွင်း၌ အစဉ် အမြဲ ပိတ်ထား
သော် လည်း၊ အကျွန်ုပ်၏ ဘုရား သခင် ထာဝရ
ဘုရား၊ ကိုယ်တော်သည် အကျွန်ုပ် အသက်ကို
၇ ပျက်စီးရာမှ ကယ်ဆယ်တော်မူလိမ့်မည်၊- အ
ကျွန်ုပ်သည်စိတ်ပျက်သောအခါထာဝရဘုရား
ကိုအောင်းမေ့၍၊ အကျွန်ုပ်၏ ပဌနာသည် သန့်
ရှင်းသော ဗိမာန်တော်၌ကိုယ်တော်ထံသို့ ဝင်
ပါ၏၊- မုသာအနတ္တကိုမှီဝဲသောသူတို့သည် မိမိ
တို့ ကရုဏာ ခံရာ အကြောင်းကို စွန့်ပြစ်ကြပါ
၈ ၏၊- အကျွန်ုပ်မူကား၊ကျေးဇူးတော်ကိုချီးမွမ်း
သောစကားနှင့်ကိုယ်တော်အားယဇ်ပူဇော်ပါ
မည်၊သစ္စာဂတိထားသည်အတိုင်းသစ္စာဝတ်
ကို ပြုပါမည်၊ ထာဝရဘုရား၏ ကျေးဇူး တော်
ကြောင့် ချမ်းသာ ရပါသည်ဟု ဆုတောင်း လေ
၁၀ ၏၊-ထိုအခါ ငါးကြီးသည်ထာဝရဘုရား၏အမိန့်
တော်ကိုခံ၍ယောနကိုကုန်းပေါ်သို့အန်လေ၏၊

၃

၁ နောက်တဖန် ထာဝရ ဘုရား ၏ နှုတ်က ပတ်
တော်သည် ယောနသို့ ရောက်လာသည်ကား၊-
သင်ထ၍ နိနေဝေမြို့ကြီးသို့ သွားလော့၊ ငါမှာ
ထားသည့်အတိုင်းကျူးကြော်လော့ဟုမိန့်တော်
၃ မူ၏၊- ထိုအခါ ထာဝရဘုရား၏ အမိန့်တော်အ
တိုင်းယောနသည်ထ၍နိနေဝေမြို့သို့သွား၏၊ နိ
နေဝေမြို့သည်အလွန်ကြီးသောမြို့၊သုံးရက်ခရီး
၄ ကျယ်ဝန်းသောမြို့ဖြစ်သတည်း၊-ယောနသည်
မြို့ထဲသို့ ဝင်၍ တနေ့ခရီး သွားလျက်၊ အရက်
လေးဆယ် လွန်သော်၊ နိနေဝေ မြို့သည် ပျက်စီး
ခြင်းသို့ရောက်လိမ့်မည်ဟုကျူးကြော်သော၏၊
၅ နိနေဝေမြို့သားတို့သည်ဘုရားသခင်၏အမိန့်
တော်ကိုယုံ၍၊ လူကြီး လူငယ်အပေါင်းတို့သည်
အစာရှောင်ရာအမှိန်ကိုကျော်ညာ၍ လျှော်တေ
၆ အဝတ်ကိုဝတ်ကြ၏၊-နိနေဝေမင်းကြီးသည်ထို
သိတင်းကို ကြားသောအခါ နန်းတော်မှဆင်း၍
မင်းမြောက်တန်ဆာကိုချွတ်ပြီးမှ၊လျှော်တေအ
၇ ဝတ်ကိုဝတ်၍ပြာထဲ၌ထိုင်တော်မူ၏၊- လူသတ္တ
ဝါတိရိစ္ဆာန် သိုးနွားတို့သည် အလျှင်း မမြည်း
စေနှင့်၊အစာကိုမစား၊ရေကိုမသောက်စေနှင့်၊-
၈ လူသတ္တဝါတိရိစ္ဆာန်တို့သည်လျှော်တေအဝတ်
ကို ဝတ်ကြစေ၊ ကြိုးစား၍ ဘုရား သခင်ကို ဆု
တောင်း ကြစေ၊ အသီး အသီး တို့သည် မိမိ တို့
လိုက်သောအဓမ္မလမ်း၊ မိမိတို့ပြုသောအဓမ္မအ
၉ မှုကိုရှောင်ကြစေ၊- ငါတို့သည် ပျက်စီးခြင်းနှင့်
ကင်းလွတ်မည်အကြောင်း၊ ဘုရားသခင်သည်
ပြောင်းလဲ၍နောင်တရသဖြင့်၊ပြင်းစွာသောအ
မျက်တော်ကိုငြိမ်းစေတော်မူမည် မမူမည်ကိုအ

ထိုသူပြောနိုင်အနည်းငယ်၊ မင်းကြီးနှင့်အာဏာ
ရှိမှူးတို့၏ အာဏာနှင့် နိနေဝေမြို့ထဲ၌ တွင် ထိ
၁၀ တင်းကြား ပြော၍ ကြော်ညာစေတော်မူ၏။ မြို့
သားတို့သည် မိမိတို့လိုက်သော အဓမ္မ လမ်းကိုလွှဲ
ရှောင်၍ ကျင့်သော အကျင့်များကို ဘုရားသခင်
သည်မြင်လျှင်၊ အရင်ကြံစည်သော ဘေးဒဏ်ကို
မပေးဘဲနေတော်မူ၏။

၄

၁ ယောနသည် အလွန်မိတ်ညစ်၍ အမျက်ထွက်
သဖြင့်၊ ထိုထာဝရဘုရား၊ အကျွန်ုပ်တောင်းပန်
ပါ၏၊ အကျွန်ုပ်သည် ကိုယ်ပြည်၌ ရှိစဉ်၊ ဤသို့
ပြောပါပြီမဟုတ်လော၊ ထိုကြောင့်၊ ကိုယ်တော်
၂ ထံမှ တာရှုမြို့သို့ ပြေးခြင်းငှါ၍ ပြေးပါ၏။ ကိုယ်
တော်သည် သနားစုံမက်တတ်သောဘုရားဖြစ်
၍ စိတ်ရှည်သော သဘော၊ ကျေးဇူးပြုရှင်သော
သဘော၊ အပြစ်ဒဏ်ပေးမည်အမှုကို နောင်တ
ရတတ်သော သဘော ရှိတော်မူကြောင်းကို အ
၃ ကျွန်ုပ်သိပါ၏။ သို့ဖြစ်၍ ထိုထာဝရဘုရား၊ အ
ကျွန်ုပ် အသက်ကို နုတ်ယူတော်မူပါ၊ အကျွန်ုပ်
အ သက် ရှင် ခြင်း ထက် သေ ခြင်း သည် သာ၍
ကောင်းပါသည်ဟု တောင်း လျှောက် လေ၏။
၄ ထာဝရဘုရားကလည်း သင်သည်အမျက်ထွက်
ကောင်းသလောဟု မေးတော်မူ၏။
၅ ယောနသည် မြို့၌ အဘယ်သို့ ဖြစ်မည်ကို သိ
မြင်ခြင်းငှါ၊ မြို့ပြင်သို့ထွက်၍ မြို့အရှေ့ဘက်၌
တဲတစ်လုံးကိုလုပ်ပြီးလျှင်၊ အရိပ်အောက်တွင်ထိုင်၍
၆ နေ၏။ ထာဝရဘုရားသခင်လည်း ကြက်
ဆူပင်ကို ပေါက်စေ၍ ယောန၏ခေါင်းကို ကွယ်
စေခြင်းငှါ သူ့ခေါင်းပေါ်မှာ ကြီးပွား၍ မိုးစေတော်မူ
၏၊ ထိုအပင်ကြောင့် ယောနသည် အလွန် ဝမ်းမြော
၇ က်၏။ နက်ဖန်မိုးသောက်သောအခါ
ဘုရားသခင် ခန့်ထားတော်မူသော ပိုးကောင်
၈ သည် ကြက်ဆူပင်ကိုကိုက်၍ ညှိုးနွမ်းစေ၏။ နေ
ထွက်သော အခါ ဘုရားသခင်သည် အလွန်ပူ
သော အရှေ့လေကို ပေါက်စေတော်မူ၍၊ ယောန၏
ခေါင်းကို နေထိမိုက်သဖြင့် သူသည် မော၍ သေ
ချင်သော စိတ်ရှိလျက်၊ ငါအသက်သေခြင်းသည်
ရှင်ခြင်းထက်သာ၍ ကောင်းသည်ဟုဆိုလေ၏။
၉ ထို၏-ဘုရားသခင်ကလည်း၊ သင်သည်ကြက်
ဆူပင် အတွက် အမျက် ထွက် ကောင်း သလော
ဟု မေးတော်မူလျှင်၊ ယောနက၊ အကျွန်ုပ်သည်
အသက် သေ သည် တိုင် အောင် အမျက် ထွက်
၁၀ ကောင်းပါသည် ဟု လျှောက် ဆို၏။ ထာဝရ
ဘုရားကလည်း သင်သည် ပင်ပန်းခြင်း မရှိ၊
ကြီးပွားစေခြင်းငှါလည်း မပြုဘဲ၊ တညဉ့်ချင်း
ထွင်ပေါက်၍ တညဉ့်ချင်း ပျောက်သော ကြက်
၁၁ ဆူပင်ကိုနှမြောသည်တကား။ ငါသည် လက်ျာ
လက်ဝဲ မခွဲခြား မသိ သော တသိန်း နှစ်သောင်းမက၊ လူများသော
နိနေဝေ မြို့ကြီးကို ငါနှမြောသင့်သည် မဟုတ်
သလောဟုမိန့်တော်မူ၏။

ပရောဖက်ယောန၏စာအုပ်ပြီး၏။

---

# မိက္ခာအနာဂတ္တိကျမ်း။

## MICAH.

၁

၁ ယုဒရှင်ဘုရင်ယောသံမင်း၊ အာခတ်မင်း၊ ဟေ
ဇကိမင်းတို့လက်ထက်၌ မောရရှေ့ရွာသားမိက္ခာ
သည် ရှမာရိမြို့နှင့် ယေရုရှလင်မြို့အမှု၌ ရသော
၂ ထာဝရဘုရား၏ ဗျာဒိတ်တော်ဟူမူကား၊ ထိုလူ
များအပေါင်းတို့၊ ကြားကြလော့၊ မြေပြည်နှင့်
မြေပြည်သားအပေါင်းတို့၊ နားထောင်ကြလော့၊ အ
ရှင်ထာဝရဘုရားတည်းဟူသော သန့်ရှင်းသော
ဗိမာန်တော်ထဲက ဘုရားရှင်သည် သင်တို့တ
၃ ဘက်၌ သက်သေခံတော်မူမည်။ ထာဝရဘုရား
သည် ကျိန်းဝပ်တော်မူရာ အရပ်မှသန တော်ထဲ
က ထွက် ကြွ ဆင်းသက်၍၊ မြင့်သော မြေအရပ်
၄ တို့ကို နင်းတော်မူမည်။ မီးရှေ့မှာဖယောင်းကဲ့
သို့၎င်း၊ ချောက်ကြီး မှ ဆင်း သော ရေကဲ့သို့၎င်း၊

ရွှေတော်၌ တောင်တို့သည် အရည်ဖြစ်၍၊
ချိုင့်တို့သည် လည်း အက်ကွဲကြလိမ့်မည်။-
၆ ထိုအမှုသည် ယာကုပ်ဩွန်ကျူး၍ ဣသရေလ
အမျိုးဖြစ်မှား သောကြောင့် ရောက်သတည်း။
ယာကုပ် ဩွန်ကျူး ရာကား အဘယ် သို့နည်း။
ရှမာရိမြို့မဟုတ်လော၊ ယုဒ၏မြင့်ရာအရပ်ကား
အဘယ်မှာရှိသနည်း။ ယေရုရှလင်မြို့၌ရှိသည်
မဟုတ်လော။-ထိုကြောင့်၊ ရှမာရိမြို့ကိုလယ်ပြင်
၌မြေပုံကဲ့သို့၎င်၊ စပျစ်ဥယျာဉ် စိုက်ရာအရပ်ကဲ့
သို့၎င် ငါဖြစ်စေမည်။ မြို့ရိုးကျောက်တို့ကို ချိုင့်
ထဲသို့ သွန်ပြစ်၍၊ မြို့ရိုးအမြစ်ကို ဖွင့်ပြမည်။-
၇ ခပ်သိမ်းသော ရုပ်တုဆင်းတုတို့ကို ချိုးဖဲ့မည်၊
သူငှါးလုပ်၍ ရသမျှသောအခတို့ကို မီး၌ရှို့မည်၊
မှားသောဘုရားရှိသမျှတို့ကိုသုတ်သင်ပယ်ရှင်း
မည်။ ပြည်တန်ဆာ လုပ်၍ ဥစ္စာကို ဆည်းဖူး
သည်ဖြစ်၍၊ ထိုဥစ္စာသည် ပြည်တန်ဆာ လက်
၈ သို့ တဖန် ရောက်ရဦးမည်။- ထိုအမှု ကြောင့်ငါ
သည်ငိုကြွေးမြည်တမ်းမည်၊ အဝတ်ကိုချွတ်၍
အချည်းစည်း လည်သွားမည်။ မြေခွေးကဲ့သို့ အူ
လျက်၊ ကုလားအုတ်ငှက်ကဲ့သို့ မြည်လျက် နေ
၉ မည်။- သူခံရသောဒဏ်နာမပျောက်နိုင်။ ယုဒ
ပြည်တိုင်အောင် ကူးသဖြင့်၊ ငါ၏အမျိုးသားတံခါး
ရာယေရုရှလင်မြို့တံခါးသို့ရောက်လေပြီ။
၁၀ ဂါသမြို့၌ သိတင်းမပြောကြနှင့်၊ အလျှင်းမငို
ကြွေးကြနှင့်။ ဗေသောဖရာမြို့မှာမြေမှုန့်၌လူးလဲ
၁၁ လျက်နေကြလော့။- ဇိုရှဖိရမြို့သူ၊ အဝတ်ကို
ချွတ်၍အရှက်ကွဲလျက်သွားလေ့။ ဇာနန်မြို့သူ
သည် ငိုကြွေးခြင်းကို ပြုလျက် မထွက်ရ။ ဗေသ
ဧဇလမြို့သည် သင်တို့တည်းခိုရသောအခွင့်ကို
၁၂ မပေးရ။- မာရုတ်မြို့သူ သည် လည်း ကောင်း
သောအရာကိုတောင့်တ၍နာကြင်လျက်ရှိ၏။ အ
ကြောင်းမူကား၊ ထာဝရဘုရားထံတော်မှ ဘေး
ဒဏ်သည်ယေရုရှလင်မြို့တံခါးသို့ရောက်လေ
၁၃ ပြီ။- ဇိုလာခိရှမြို့သူ၊ လျင်မြန်သောမြင်းကိုရ
ထား၌ ကလော့။ သင်သည် ဣသရေလ၏ ဩွန်
ကျူးခြင်းကိုလက်ခံ၍၊ ဇိအုန်သတို့သမီး၏အ
၁၄ ပြစ်ထမ်းကိုပြုသတည်း။-ထိုကြောင့်၊ သင်သည်
ဂါသပြည်မောရရှက်မြို့သို့ လက်ဆောင်ကို ပေး
လိုက်ရမည်။ အခါဇိပ်မြို့သားတို့သည်ဣသရေ
၁၅ လရှင်ဘုရင်တို့ကိုလှည့်စားကြလိမ့်မည်။- ဇိုမ
ရေရှမြို့သူ၊ သင်၏ဥစ္စာကိုအမွေခံသောသူကိုငါ
ခေါ်ခဲ့မည်။ သူသည် ဣသရေလဘုန်းအဒုလံမြို့
၁၆ သို့ရောက်လိမ့်မည်။-ချစ်ဖွယ်သောသင်၏သား
သမီးတို့သည်သိမ်းသွားခြင်းကိုခံရသောကြောင့်၊
သူတို့အတွက်သင်သည်ခေါင်းပြောင်အောင်ဆံ
ပင်ကိုရိတ်၍ နေလော့။ ဗျိုင်းတကဲ့သို့ ကျယ်
စွာသောခေါင်းပြောင်ခြင်းကိုပြုလော့။

၂

၁ ဒုစရိုက်ကိုပြုခြင်းငှါ အိပ်ရာပေါ်မှာမကောင်း
သောအကြံကိုကြံ၍၊ မိုဃ်းလင်းသောအခါ အ
ခွင့်ရသည်အတိုင်း ပြုတတ်သောသူတို့သည်အ
၂ မင်္ဂလာရှိကြ၏။-သူတပါး၏ အိမ်နှင့်လယ်ယာ
တို့ကိုတပ်မက်၍ အနိုင်အထက်သိမ်းယူလျက်၊
လူနှင့်သူ၏ အိမ်ကို၎င်၊ လူကြီးနှင့် သူ၏ အမွေ
ဥစ္စာကို၎င်လုယက်၍ ညှဉ်းဆဲတတ်ကြ၏။- သို့
ဖြစ်၍၊ ထာဝရဘုရားမိန့်တော်မူသည်ကား၊ သင်
တို့လည်ပင်းမလွတ်၊ ခေါင်းမကြွနိုင်သောဘေး
ဒဏ်ကိုထိုသို့သောအိမ်ထောင်တဖက်၌ ငါကြံ
စည်၏။ ဆိုးသောကာလဖြစ်လိမ့်မည်။
၄ ထိုကာလတွင်သင်တို့တဖက်၌ပုံစကားကိုသုံး
၍၊ အလွန်ပြင်းစွာမြည်တမ်းရသောစကားဟူမူ
ကား၊ ငါတို့သည်ရှင်းရှင်းပျက်စီးကြပြီ။ ငါ့အမျိုး
သား ခံစားရသောအဖို့ကို ထဲ၍ ငါ့လက်မှရုပ်
တော်မူပြီတကား၊ ငါတို့ထယ်ကွက်များကိုရုပ်
၅ သိမ်း၍၊ သူတပါးတို့အားဝေဖန်တော်မူပြီ။-ထို
ကြောင့်၊ ထာဝရဘုရား၏ ပရိသတ်တော်တွင်၊
သင်တို့ ခံစားရသောအဖို့ကိုကြိုးတန်းနှင့် တိုင်း
ထွာသောသူ မရှိရ။- ပရောဖက် ပြုသော သူတို့၊
ပရောဖက်မပြုကြနှင့်။ သူတို့သည်ရှက်ကြောက်
၇ မည် အကြောင်း ပရောဖက် မပြုရကြ။- ထာဝရ
ဘုရား၏ ဝိညာဉ်တော်သည် ဆီးတားခြင်းကိုခံ
ရသလော။ ဤအမှုတို့ကို ပြုတော်မူသလော၊ ဟု
ဣသရေလအမျိုးသားမေးလျှင်၊ ဖြောင့်မတ်စွာ
ကျင့်သောသူသည် ငါ့စကားအားဖြင့် အကျိုးကို
၈ ရသည်မဟုတ်လော။- ရှေးကာလ၌ပင် ငါ၏လူ
တို့သည် ရန်ဘက်ပြု၍ ထကြ၏။ စစ်တိုက်ရာမှ
ပြန်၍ဘေးကိုမကြောက်ဘဲ၊ ရှောက်သွားသော
သူတို့၏ ခြုံအဝတ်နှင့် အတွင်းအဝတ်ကို လုယူ
၉ တတ်ကြ၏။- ငါ့လူတို့၏မယားများကိုသူတို့သာ
ယာသော နေရာထဲက နှင်ထုတ်၍၊ သူတို့သား
၁၀ များမှ ငါ၏ဘုန်းကိုအစဉ်နှုတ်ယူကြပြီ။- ထ၍
သွားကြလော့။ ဤပြည်သည် သင်တို့ငြိမ်ဝပ်ရာ
အရပ် မဟုတ်။ ဤအရပ်သည် ညစ်ညူးသော
ကြောင့် ကြီးစွာသောပျက်စီးခြင်းနှင့် ပျက်စီးရ

၁၁ ထိန့်မည်။- ကိုယ်အလိုအလိုက်၍ ရုလာသောသား
ကိုထုံးသောသူက၊ ငါသည်ပရောဇတ်ပြု၍ စပျစ်
ရည်သေရေးနှင့် သေရည်သေရက်တရားကိုဟော
ပြော မည် ဟု ဆိုလျှင်၊ ထိုသူ သည် ဤလူမျိုး၏
ပရောဇတ်ဖြစ်ရလိမ့်မည်။
၁၂ အိုယာကုပ်၊ ငါသည် သင်၏အမျိုးသား၊ အ
ပေါင်းတို့ကိုရှင်၊ ကျန်ကြွင်းသောဣသရေလ အ
မျိုးသားအပေါင်းတို့ကိုငှင်ဆည်းဆည်း စုဝေးစေ
မည်။ ထိုးခြံ၌ သိုးများကဲ့သို့၎င်း၊ ကျက်စားရာအ
ရပ်ထဲမှာ သိုးစုကဲ့သို့၎င်း၊ လူတို့ကို ငါစု၍ ထား
မည်။ လူများသောကြောင့်အသံကြီးလိမ့်မည်။-
၁၃ အနိုင်အထက် ဖွင့်သော သူသည် သူတို့ ရှေ့မှာ
သွား၏။ သူတို့သည်လည်း အနိုင်အထက်ဖွင့်၍
တံခါးဝဖြင့် ရှောက်သွားကြ၏။ သူတို့ရှင်ဘုရင်
သည် သူတို့ရှေ့မှာ သွား၍ ထာဝရဘုရားသည်
ထိပ်ဆောင်တော်မူ၏။

၃

၁ ငါဆိုသည်ကား၊ အိုယာကုပ်အမျိုးမင်း၊ ဣသ
ရေလအမျိုးသူကြီးတို့၊ နားထောင်ကြပါလော့။
သင်တို့သည်တရားသဖြင့် စီရင်ခြင်းအမှုကိုနား
၂ လည်အပ်သည်မဟုတ်လော။-သူစရိတ်ကိုမုန်း
၍ ရစရိတ်ကိုနှစ်သက်လျက်၊ သူတပါးအရေကို
၎င်း၊အရိုး၌ကပ်သောအသားကို၎င်းဆွဲယူလျက်။-
၃ ငါ လူ တို့၏ အသား ကို စား လျက်၊ အ ရေ ကို ခွာ
လျက်၊ အရိုး တို့ကို ချိုးလျက်၊ ထင်းအိုး၌ ချက်
သောသားတစ်၊ အိုးကင်း၌ပြုတ်သောအမဲသား
ကို ပြုသကဲ့သို့ အရိုးအသားကို စည်း လျက်နှင့်
၄ ပင်။- သင်တို့သည် ထာဝရဘုရားကို အော်ဟစ်
ကြသော်လည်း နားထောင်တော်မမူ၊ ရစရိတ်ကို
ပြုကြသည် နှင့်အညီ၊ ထိုကာလ၌မျက်နှာတော်
၅ ကိုဖွဲ့တော်မူလိမ့်မည်။-ငါ၏ လူတို့ကိုမှားယွင်း
စေလျက်ဝ ခွာစားရသောအခါ၊ ငြိမ်ဝပ်ခြင်းအ
ကြောင်းရှိသည် ဟု ကျွေး ကြော် လျက်၊ မထုပ်
ကျွေးသောသူကိုကား၊ စစ်တိုက်ခြင်းငှါဖွင့်ဆင်
၆ လျက်၊ ပရောဇတ် ပြုသောသူတို့၊- သင်တို့သည်
ရူပါရုံကိုမမြင်နိုင်မည်အကြောင်း၊ ညည့်အမှိုက်
ရောက်လိမ့်မည်။ အနာဂတ်ကိုမဟောနိုင်မည်
အကြောင်း မှောင်မိုက်ဖြစ်လိမ့်မည်။ ပရောဇတ်
တို့၌နေဝင်လိမ့်မည်။ နေ့အမိုက်၌ပယ်မှောင်မိုက်
၇ မှုံးကွယ်လိမ့်မည်။- ထိုအခါပရောဇတ်တို့သည်
ရှက်ကြောက်ကြလိမ့်မည်။ အနာဂတ်ကိုဟော
သောသူတို့သည် မိတ်ပျက်ကြလိမ့်မည်။ ဘုရား
ထံမှ ထူး တော် မ ရှ သော ကြောင့်၊ ထိုသူ အ
ပေါင်းတို့သည် မိမိတို့ နှုတ်ကို ပုံ၊ ထားကြ လိမ့်
မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။
၈ ငါမူကား၊ ယာကုပ်အမျိုး ဒုစရိုက်ပြုခြင်း၊ ဣ
သရေလအမျိုး၊ ပြစ်မှားခြင်းကိုသူတို့အားဖော်ပြ
နိုင်မည် အကြောင်း၊ ထာဝရ ဘုရား၏ ဝိညာဉ်
တော်အားဖြင့် အမှန်တန်ခိုး၊ ညာဏ်သတ္တိ၊ အ
၉ စွမ်းသတ္တိနှင့် ပြည့်စုံ၏။- ခြောင့် မတ်စွာ စီရင်
ခြင်းကို ရွံရှာ၍ ခပ်သိမ်းသောတရားကို ရှုတ်
၁၀ လျက်၊-လူအသက်ကိုသတ်ခြင်းအမှုဖြင့် ဇိအုန်
မြို့ကို၎င်း၊ အဓမ္မအမှုဖြင့်ယေရုရှလင်မြို့ကို၎င်းပြု
စုသော ယာကုပ်အမျိုးမင်း၊ ဣသရေလအမျိုးသူ
၁၁ ကြီးတို့၊ နားထောင်ကြပါလော့။- မင်းတို့သည်
တံစိုးလက်ဆောင်ကို ရခြင်းငှါသာ တရားမှုကို စီရင်
တတ်ကြ၏။ ယဇ်ပရောဟိတ်တို့သည် အခကိုရ
ခြင်းငှါသာ သင် ပေးတတ် ကြ၏။ ပရောဇတ် တို့
သည် ငွေကို ရခြင်းငှါ သာ အနာဂတ် ကို ဟော
တတ်ကြ၏။ သို့သော်လည်း၊ ထာဝရဘုရားကို
မှီလျှို့လျက်၊ ထာဝရ ဘုရားသည် ငါတို့အထဲ၌
ရှိတော်မူသည်မဟုတ်လော၊ ဘေးဥပါဒ်မရောက်
၁၂ နိုင်ဟု ဆိုတတ်ကြသည် တကား။- ထိုကြောင့်၊
သင်တို့အတွက် ဇိအုန်တောင်သည် လယ်ကဲ့သို့
ထွန်ခြင်းကိုခံရလိမ့်မည်။ ယေရုရှလင် မြို့သည်
လည်း၊ မြေပုံ များဖြစ်လိမ့်မည်။ ဗိမာန် တော်
တောင် သည် လည်း၊ တော ထောင် ကဲ့ သို့ ဖြစ်
လိမ့်မည်။

၄

၁ နောက်ဆုံးသော ကာလ၌ ထာဝရ ဘုရား၏
အိမ်တော် တည်သော တောင်သည် တောင်ကြီး၊
တောင်ငယ်တို့၏ ထိပ်ပေါ်မှာ ရှိ၍ မြင့်တက်၍ တည်
လိမ့်မည်။ ခပ်သိမ်းသောလူစုတို့သည် ထိုတောင်
၂ သို့ စည်းဝေးကြလိမ့်မည်။- များပြားသော လူ
မျိုးတို့ကလည်း၊ လာကြလော့၊ ထာဝရဘုရား
၏ တောင်တော်၊ ယာကုပ်အမျိုး၏ ဘုရားသခင်
အိမ်တော်သို့ တက်သွားကြကုန်အံ့၊ ထံးစရိုး
တော်တို့ကိုပြသွန်သင်တော်မူ၍၊ ငါတို့သည်
ခြေတော်ရာသို့လိုက်သွားကြမည်ဟု၊ ခရီးသွား
လျက် ပြောဆိုကြလိမ့်မည်။ တရား တော်သည်
ဇိအုန်တောင်မှ၎င်း၊ ထာဝရဘုရား၏ နှုတ်ကပတ်
တော်သည် ယေရုရှလင်မြို့မှ၎င်း ပေါ်ထွက် လိမ့်
၃ မည်။- ထာဝရဘုရားသည် များပြားသောလူတို့
တွင် တရားစီရင်၍၊ ဝေးစွာနေလျက် အားကြီး၊

သောလူမျိုးတို့ကိုဆုံးမတော်မူသဖြင့်၊သူတို့သည်ထား
လက်နက် များကို ထွန်သွား ဖြစ် စေခြင်းငှါ ၎င်း၊
လှံများကို တံစဉ်ဖြစ်စေခြင်းငှါ၎င်း ထု လုပ်ကြ
လိမ့်မည်။ တပြည်ကိုတပြည်စစ်မတိုက်။ စစ်အ
၄ တတ်ကိုလည်းနောက်တဖန်မသင်ရကြ။- လူအ
ပေါင်းတို့သည် ကိုယ်ပိုင်သောစပျစ်ပင်၊ ကိုယ်
ပိုင်သောသင်္ဘောသဖန်းပင်အောက်မှာ ထိုင်ကြ
လိမ့်မည်။ကြောက်စေသောသူတယောက်မျှမရှိ
ရ။ ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏
၅ နှုတ်တော် ထွက် အမိန့် တော် ရှိ၏။- လူမျိုးအ
ပေါင်းတို့သည်ကိုယ်ဆိုင်သော ဘုရား၏နာမကို
မှီ၍လျှောက် ကျင့် နေ တတ် ကြ၏။ ငါ တို့ မူကား၊
ကိုယ်ဆိုင်သော ဘုရားသခင် ထာဝရဘုရား၏
နာမတော်ကိုကာလအစဉ်အမြဲမှီ၍လျှောက်ကျင့်
၆ နေကြမည်။- ထာဝရ ဘုရား မိန့်တော်မူသည်
ကား၊ထိုကာလ၌ခြေဆွံ့သောသူကိုငါခေါ်မည်။
နှင်ထုတ်ခြင်းကို ခံရသောသူ၊ ငါညှဉ်းဆဲ ဘူး
၇ သောသူတို့ကိုငါစုဝေးစေမည်။- ခြေဆွံ့သောသူ
ကို ငါကျန်ကြွင်း စေမည်။ အဝေးသို့ နှင် ထုတ်
ခြင်းကို ခံရသောသူသည် ကြီးမားသောလူမျိုး
ဖြစ်စေခြင်းငှါငါစီရင်မည်။ထာဝရဘုရားသည်
ဇိအုန်တောင်ပေါ်မှာသူတို့ကို ယခုမှစ၍ အစဉ်
၈ အမြဲ အုပ်ချုပ် စိုးစံတော် မူလိမ့်မည်။- အိုဧဒါ
လင့်စင်၊ ဇိအုန်သတို့သမီးနေရာကုန်း၊ သင်သည်
အစိုးရ လိမ့်မည်။ အရင် တည် သော အာဏာ
တည်ပြန်လိမ့်မည်။ နိုင်ငံတော်သည်ယေရုရှလင်
သတို့သမီးထံသို့တဖန်ရောက်လိမ့်မည်။
၉ ယခု မှာ သင် သည် အဘယ် ကြောင့် ကျယ်
သော အသံ နှင့် အော်ဟစ် သနည်း။ သင်၌ ရှင်
ဘုရင် တ ယောက် မျှ မရှိ သ လော။ အကြံ ပေး
သော မှူးမတ် ပျောက်ပျက် သလော။ သားဖွား
သောမိန်းမကဲ့သို့သင်သည်ဝေဒနာကိုခံရပါသည်
၁၀ တကား။- အိုဇိအုန် သတို့ သမီး၊ သား ဖွားသော
မိန်းမကဲ့သို့ဝေဒနာကို ခံ၍၊ သားကို ဖွားအံ့သော
ငှါ အားထုတ်လော့။ ယခုပင် သင်သည် မြို့ထဲ
က ထွက်၍ လယ်ပြင် ၌ နေရမည်။ ဗာဗုလုန်မြို့
တိုင်အောင်သွားရမည်။ ထိုမြို့၌လွတ်လိမ့်မည်။
ထိုမြို့ ၌ ထာဝရ ဘုရားသည် သင့်ကို ရန်သူ တို့
၁၁ လက်မှရွေးနှုတ် တော်မူလိမ့်မည်။- ယခုမှာလူ
မျိုးများတို့က၊ဇိအုန်မြို့သည်ညစ်ညူးပါစေ။သူ၌
ငါတို့အလိုပြည့်စုံပါစေဟု၊ သင့်ကိုဆန့်ကျင်၍စုဝေး
၁၂ [illegible] ထာဝရဘုရား၏

စိတ်တော်ကိုမသိ၊ အကြံအစည်တော်ကို နားမ
လည်ကြ။ ကောက်လှိုင်းတို့ကို ကောက်နယ် တ
လင်း၌စုထားသကဲ့သို့၊ထိုသူတို့ကို စုသိမ်းတော်
၁၃ မူ၏။- အိုဇိအုန်သတို့သမီး၊ ထ၍နယ်လော့။ သင့်
ဦးချိုကို သံဖြစ်၎င်း၊ သင့်ခွာတို့ကို ကြေးဝါဖြစ်
၎င်း ငါပြုစေမည်။ သင်သည် လူမျိုးများတို့ကို
ညက်ညက် ခြေရမည်။ သူတို့တွင် ရသမျှသော
စည်းစိမ်ဥစ္စာကိုယူ၍၊ မြေတပြင်လုံးကို အစိုး
ပိုင် တော် မူသောအရှင် ထာဝရဘုရားအား ပူ
ဇော်ရမည်။

## ၅

၁ ယခုမူကား၊ အိုဗိုလ်ခြေသတို့သမီး၊ စည်းဝေး
၍ခင်းကျင်းလော့။ ငါတို့ကိုဝိုင်းထားကြပြီ။ ဣ
သရေလမင်း၏ပါးကိုကြိမ်လုံးနှင့်ရိုက်ကြပြီတ
ကား။
၂ အိုဗက်လင်ဧဖရတ်မြို့၊ အစိုးရသော ယုဒမြို့
တို့တွင် သင်သည်မြို့ငယ်မြို့ယုတ်ဖြစ်သော်လည်း၊
ဣသရေလအမျိုးကိုအုပ်စိုးရသော သခင်သည်
ငါ့အဖို့သင်၏အထဲမှာပေါ်ထွန်းလတံ့။ ထိုသခင်
သည်ရှေးကပ်ကမ္ဘာမှစ၍ပေါ်ထွန်းသောသခင်
၃ ဖြစ်၏။- သို့ဖြစ်၍၊ သားဖွားခြင်းဝေဒနာကို ခံရ
သောမိန်းမသည် မဖွားမှီတိုင်အောင်၎င်း၊ ဣသရေ
လအမျိုးသားတို့နှင့်တကွ ကျန်ကြွင်းသော ညီ
အစ်ကိုတို့သည်မပြောင်းလဲမှီတိုင်အောင်၎င်း၊သူ
၄ တို့ကိုစွန့်ပြစ်တော်မူလိမ့်မည်။- ထိုသခင်သည်
ရပ်၍ထာဝရဘုရား၏ အစွမ်းသတ္တိနှင့်၎င်း၊ မိမိ
ဘုရားသခင် ထာဝရဘုရား၏နာမတော် တန်ခိုး
အာနုဘော်နှင့်၎င်း၊ မိမိ သိုးစုကို ကျွေးမွေး လိမ့်
မည်။သူတို့သည်လည်း တည်ကြလိမ့်မည်။ အ
ကြောင်းမူကား၊ထိုသခင်သည်မြေကြီးစွန်းတိုင်
အောင်အစိုးရ၍၊ ရန်ငြိမ်းခြင်း အကြောင်း ဖြစ်
၅ တော်မူလိမ့်မည်။- အာရှုရိလူသည် ငါတို့ပြည်
သို့လာ၍၊ ငါတို့ ဘုံဗိမာန်များကို နင်းသောအ
ခါ၊ သိုးထိန်းခုနစ်ပါးနှင့် လူကြီးရှစ်ပါးတို့သည်
၆ ငါတို့တွင်ပေါ်ထွန်း၍၊- ထားလက်နက်ဖြင့်အာ
ရှုရိပြည်ကို၎င်း၊ မြို့တံခါးဝ အတွင်း၌နိမ်ရောဒ
နိုင်ငံကို၎င်းသုတ်သင်ပယ်ရှင်းသောအားဖြင့်၊ ငါ
တို့ပြည်သို့လာ၍၊ ငါတို့နယ် အတွင်းတွင် နင်း
သော အာရှုရိလူ၏လက်မှ ငါတို့ကို ကယ်တင်
လိမ့်မည်။
၇ ကျန်ကြွင်းသောယာကုပ်အမျိုးသားတို့သည်
တပါးအမျိုးသား အများတို့တွင်၊ [illegible]

ထုရားပေးတော်မူသောနှင်းကဲ့သို့၎င်း၊ လူကိုမငံ့
လင့်၊ လူသားတို့၏အလိုသို့ မလိုက်သော မိုဃ်း
ရေကဲ့သို့၎င်းဖြစ်ကြလိမ့်မည်။—ကျန်ကြွင်းသော
ယာကုပ်အမျိုးသားတို့သည် တပါးအမျိုးသား
အများတို့တွင်နေ၍၊ တောသားရဲတို့တွင်ခြင်္သေ့
ကဲ့သို့၎င်း၊ သိုးစုတို့တွင် ခြင်္သေ့ပျိုကဲ့သို့၎င်း ဖြစ်
ကြလိမ့်မည်။ ခြင်္သေ့ဝင်သောအခါ အထက်သူမှာ
မကယ်နှုတ်နိုင်အောင်နင်း၍ကိုက်စားတတ်၏။—
၉ သင်၏ရန်ဘက်၌နေသောသူတို့ကိုသင်လိုက်၍၊
ရန်သူအပေါင်းတို့သည် ဆုံးရှုံးကြလိမ့်မည်။—
၁၀ ထာဝရဘုရားမိန့်တော်မူသည်ကား၊ ထိုကာလ
၌သင်၏မြင်းတို့ကို သင့်အထဲက ငါပယ်ရှင်း
၍၊ သင်၏ရထားတို့ကိုလည်း ဖျက်ဆီးမည်။—
၁၁ သင်၏ပြည်၌မြို့တို့ကိုငါပယ်ရှင်း၍၊ သင်၏ခဲ
၁၂ တိုက်ရှိသမျှတို့ကို ဖြိုဖျက်မည်။— သင်၏နယ်၌
စုန်းလုပ်သောသူတို့ကိုငါပယ်ရှင်း၍၊ သင်၌ဗေ
၁၃ ဒင်ဟောသော သူ မရှိရ။— ထုလုပ်သော ရုပ်တု
ဆင်းတုတို့ကို သင့် အထဲက ငါ ပယ်ရှင်း၍၊
ကိုယ်လက်နှင့် လုပ်သောအရာကို နောက်တဖန်
၁၄ သင်မကိုးကွယ်ရ။—အာရှရပင်တို့ကိုလည်းသင့်
အထဲ၌ငါနှုတ်၍၊သင်၏မြို့တို့ကိုလည်းငါဖျက်
၁၅ ဆီးမည်။— စကားကိုနားမထောင်သောတပါး
အမျိုးသားတို့ကိုပြင်းစွာအမျက်ထွက်၍အပြစ်
ဒဏ်ကိုငါစီရင်မည်။

၆

၁ ထာဝရဘုရား၏အမိန့်တော်ကိုနားထောင်ကြ
လော့။ ထ၍တောင်ကြီးတို့ရှေ့မှာ တရားတွေ့သ
ဖြင့်တောင်ငယ်တို့သည်သင့်စကားကိုကြားကြ
၂ စေ။— အို တောင်တို့၊ မြိုင်ခံ့သော မြေ အမြစ်တို့၊
ထာဝရ ဘုရား၏ တရားတွေ့မှုကိုနားထောင်ကြ
လော့။ ထာဝရဘုရားသည် မိမိလူမျိုးနှင့်တရား
တွေ့စရာ ရှိ၏။ ဣသရေလ အမျိုး နှင့် ဆွေးနွေး
၃ ငြင်းခုံတော်မူမည်။— အိုငါ၏လူ မျိုး၊ သင့်ကိုအ
ထယ်သို့ငါပြုဘူးသနည်း။ အဘယ်သို့ညည်းငြဲ
၄ ဘူးသနည်း။ ငါ့တဘက်၌သက်သေခံလော့။— သင့်
ကိုအဲဂုတ္တုပြည်မှ ငါဆောင်ခဲ့ပြီ၊ ကျွန်ခံနေရာအ
ရပ်မှ ရွေးနှုတ်ပြီ၊ သင့်ရှေ့မှာမောရှေ၊ အာရုန်၊
၅ မိရိယံတို့ကိုငါစေလွှတ်သေပြီ။— အိုငါ၏လူမျိုး၊
မောဘ်မင်း ဗာလက်ကြံစည်ချက်နှင့် ဗာလမ်မင်းကြီး၊ ဗာလမ်မှာ မေဘဝ
ဗာလက်ကြံ၍ ဗေအော်၏သား ဗာလမ်ပြန်ပြောသောစကားကိုမှင်
အောက်မေ့လော့။ ရှိတ္တိမ်မှ ဂိလဂါလသို့ ရောက်သည်တိုင်အောင်ပြုမူချက်၊ ထာ

ဝရဘုရား၏ဖြောင့်မတ်တော်မူခြင်းကိုနားလည်
လိမ့်မည်။
၆ ငါသည် ထာဝရဘုရားရှေ့တော်သို့ အဘယ်
ပူဇော်သကာ ပါလျက် ချဉ်းကပ်၍၊ အမြင့်ဆုံး
သော ဘုရားသခင် ရှေ့တော်၌ ကိုးကွယ် ရမည်
နည်း။ မီးရှို့ရာယဇ်နှင့် အခါလည်သောနွားသ
ငယ်တို့ကိုဆောင်လျက် ချဉ်းကပ်ရမည်လော။—
၇ ထာဝရဘုရားသည်သိုးထီးတကောင်းထောင်မြောက်
သောင်းကို အားရ နှစ်သက် တော်မူမည်လော။
ငါ့အပြစ်ကျူးလွန်ခြင်းအတွက် ငါ၏သားဦးကို၎င်း၊ ငါ့
စိတ်ဝိညာဉ်၏ အပြစ် အတွက် ငါ၏ ရင်သွေးကို
၈ ပူဇော်ရမည်လော။-အချင်းလူ၊ကောင်းသော
အမှုကိုပြတော်မူပြီ။တရားသဖြင့်ပြုခြင်း၊ ကရု
ဏာကို နှစ်သက် ခြင်း၊ သင်၏ ဘုရားသခင် ရှေ့
တော်၌ နှိမ့်ချသော စိတ် နှင့် ကျင့် နေ ခြင်း မှ တ
ပါး အဘယ် ပူဇော် သကာ ကို ထာဝရ ဘုရား
တောင်းတော်မူသနည်း။
၉ ထာဝရ ဘုရား၏ နှုတ်ကပတ် တော်သည် မြို့
ကိုဟစ်ခေါ်တော်မူ၏၊ ပညာရှိသောသူသည်နာ
မတော်ကိုကြောက်ရွံ့ရ၏၊ ဒဏ်ခြင်းကို၎င်း၊စီရင်
သော သူသည် အဘယ် သူ ဖြစ်သည် ကို၎င်း နား
၁၀ ထောင်ကြလော့။— မတရားသောသူတို့၏အိမ်၌
မ တရား သ ဖြင့် ဆည်းဖူး သော ဥစ္စာ နှင့် ရွံ့ ရှာ
ဖွယ်သော တင်းတောင်းငယ် ရှိသေးသလော။—
၁၁ မတရားသော ချိန်ခွင်နှင့် စည်းထဲသော အလေး
အိတ်ရှိသောမြို့ကိုသန့်ရှင်းသောမြို့ဟု၍ငါမှတ်
၁၂ ရမည်လော။— မြို့သား သူဌေးတို့သည် အနိုင်အ
ထက်ပြု၍ ရတတ်ကြ၏၊ ထိုမြို့၌နေသောသူတို့သည်
လည်း မုသာကို သုံးတတ်ကြ၏၊ သူတို့ နှုတ်၌ရှိ
၁၃ သော လျှာသည် မုသာဖြစ်၏။— ထို့ကြောင့်၊ သင်၏
အပြစ်ကြောင့်သင့်ကိုငါသုတ်သင်ပယ်ရှင်းခြင်း
၁၄ အလို့ငှါ နာကျည်း စွာ ဒဏ် ခတ် မည်။— သင်
သည်စားသော်လည်းမဝရ၊ ဗွက်ထိပ်ခြင်းကို ခံ
ရမည်၊ သင်သည်ရှောင်သော်လည်း လွတ်၍ မသွားရ၊
လွတ်သွားသော အရာကိုလည်း ထားဘေး သို့ ငါ
၁၅ အပ်မည်။— မျိုးစေ့ကို ကြဲသော်လည်း စပါးကို
မရိတ်ရ၊ သံလွင် သီးကို နယ် သော် လည်း ဆီ
နှင့် ကိုယ်ကို မလိမ်းရ၊ စပျစ် သီးကို နယ်သော်
၁၆ လည်း၊ စပျစ်ရည်ကိုမသောက်ရ။— အကြောင်း
မူကား၊ သင်သည်ဩမရိမင်း၏စီရင်ထုံးဖွဲ့ချက်
တို့ကို၎င်း၊ အာဟပ်မင်း၏ မျိုး ကျင့် သော အကျင့်
ရှိသမျှကို၎င်း ကျင့်စောင့်၍ သူတို့၏ အကြံ ကို လိုက်လျှောက်နေ

 

ရာသို့လိုက် တတ်၏။ ထိုဖြစ်၍၊ သင့်ကို ငါ သုတ်
သင်ပယ်ရှင်း၍ မြို့သား တို့ကို ဆဲရေးရာ ဖြစ်စေ
အဖြင့်၊ သင် သည် ငါ၏ လူ တို့ ကဲ့ရဲ့ ခြင်း ကို ခံ
ရမည်။

၇

၁ ငါသည်အမဂ်ီလာရှိ၏။နွေကာလ၌ဆွတ်သော
သဘော်သဖန်း သီး၊ကဲ့သို့ ၎င်၊ လိုက်၍ ကောက်
သောစပျစ်သီး အကျန်အကြွင်း၊ကဲ့သို့၎င် ငါ ဖြစ်
၏။ စား စရာ့ဘို့ စပျစ် သီး ပွင့်တ် မရှိ။ အဦး မှည့်
သောသဘော် သဖန်းသီးကို ငါတောင့်တရ၏။¬
၂ ကောင်းသောပြည်သားအပေါင်းတို့သည်ကွယ်
ပျောက်ကြပြီ။ဖြောင့်မတ်သောသူတယောက်မျှ
မရှိ။ ခပ်သိမ်းသောသူတို့သည် လူအသက် ကို
သတ်ခြင်းငှါချောင်း၍ကြည့်တတ်ကြ၏။အချင်း
ချင်း တယောက်ကို တယောက် ကျော့ ကွင်း နှင့်
၃ ဖမ်းတတ်ကြ၏။- ဒုစရိုက်ကိုကြိုးစား၍ ပြုခြင်း
ငှါ အသင့်ရှိကြ၏။ မင်း သည် ထက် ဆောင် ကို
တောင်း တတ်၏။ တရား သူကြီး သည် တံစိုး ကို
စားတတ်၏။ သူတပါးထက် ကြီးသော သူသည်
မတရား သောထောတကို ထင်ရှား စေတတ်၏။
၄ ထိုသို့အမှုကို ရှုပ်စေခြင်းငှါ ပြုတတ် ကြ၏။- အ
ကောင်းဆုံးသော သူသည် ဆူးပင်ကဲ့သို့ ဖြစ်၏။
အဖြောင့်ဆုံးသောသူသည် ဆူးခြံထက် ခက်ထ
၏။ သင်၏ကင်းစောင့် တို့သည် သတိပေး သော
နေ့၊သင်စစ်ကြောခြင်းကို ခံရသောနေ့ရက်သည်
ရောက်လာပြီ။ နှိပ်စက်နှောင့်ရှက်ရာကာလဖြစ်
၅ ၏။-အဆွေခင်ပွန်းကိုမယုံနှင့်။ လမ်းပြသောသူ
ကိုအမှီမပြုနှင့်။ သင့်ရင်ခွင်၌ အိပ်သောမယား
ကိုမယုံမှု၍၊သင့်နှုတ်တံခါးကိုပိတ်ထားလော့။-
၆ အကြောင်း မူကား၊ သားသည်အဖ၏ အသရေ
ကို ဖျက်လိမ့်မည်။ သမီးသည် အမိကို၎င်၊ ချွေးမ
သည် ယောက္ခမ ကို၎င် ရန်ထက် ပြုလိမ့်မည်။
ကိုယ် အိမ်သူ အိမ်သား တို့သည်ထည်း ကိုယ်
ရန်သူဖြစ်ကြလိမ့်မည်။
၇ ငါမူကား၊ထာဝရဘုရားကိုမျှော်ထင့်မည်။ င
ကိုကယ်တင်တော်မူသော ဘုရားသခင်ကို ငါမို
ဉ့်မည်။ ငါ၏ဘုရားသခင်သည် ငစကားကိုနား
၈ ထောင်တော်မူမည်။- အချင်းရန်သူ၊ငအပေါ်မှာ
ဝါကြွား ဝမ်းမြောက်ခြင်း မရှိနှင့်။ ငါလဲသော်
လည်းထဦးမည်။မှောင်မိုက်၌ထိုင်ရသော်လည်း၊
ထာဝရဘုရားသည်ငါ၏အလင်းဖြစ်တော်မူလိမ့်
၉ မည်။- ငါသည်ထာဝရဘုရားကို ပြစ်မှားသော့
ကြောင့်၊ အမှုက် တော်ကိုခံရ၏။ ငအမှုကို စစ်
ကြော၍ တရားဆုံးဖြတ်တော်မမူမှီ ထိုင်အောင်
ငါခံရ၏၊ ငကို အလင်းထဲသို့ ထုတ်၍ နေရာပေး
တော်မူသော အခါးဖြင့် ဖြောင့် မတ်ခြင်း ပါရမီ
၁၀ တော်ကိုငါမြင်ရလိမ့်မည်။- သင်၏ဘုရားသခင်
ထာဝရ ဘုရားကား၊ အဘယ်မှာ ရှိသနည်း ဟု
မေးသော င ရန်သူသည် ထိုအမှုကို မြင်၍ ရှက်
ကြောက်လိမ့်မည်။ သူ၌ငမိတ်ပြေလိမ့်မည်။ သူ
သည် လမ်းမှာ ရွှံ့ကဲ့သို့ ကျော်နင်းခြင်းကို ခံရ
လိမ့်မည်။
၁၁ သင်၏ မြို့ရိုး တည်သောကာလသည် ရောက်
၁၂ လိမ့်မည်။ အမိန့်တော်အရှိန်ကုန်လိမ့်မည်။- ထို
ကာလ၌ အာရှုရိပြည် နှင့် အဲဂုတ္တု မြို့ရွာ်းမှ၎င်၊
အဲဂုတ္တုပြည်နှင့် မြစ်ကြီးစပ်ကြားအရပ်မှ၎င်၊
ပင်လယ် ကမ်းနား အရပ်ရပ်၊ တောင် ခြေရင်း
အရပ်ရပ်တို့မှ၎င်၊သင့်ထံသို့လာကြလိမ့်မည်။-
၁၃ ထိုသို့မဖြစ်မှီပြည်သူပြည်သားပြုမိသောဒုစရိုက်
အပြစ်ကြောင့်ပြည်တော်သည်လူဆိတ်ညံလျက်
၁၄ ရှိရလိမ့်မည်။-ကိုယ်တော်၏ လူတည်းဟူသော
အပေါင်း အဖော် မရှိဘဲ၊ တောတွင် ကရမေလ
တောင် ပေါ်မှာ နေရသော အမွေတော် သိုးစုကို
သိုးထိန်း နှင့်တံနှင့် ထိန်းတော်မူပါ။ရှေးကာလ
၌ရှိသကဲ့သို့၊ဗာရှန်ပြည်နှင့်ဂိလဒ်ပြည်၌ကျက်
၁၅ စားသောအခွင့်ကို ပေးတော်မူပါ။- သင်သည်
အဲဂုတ္တု ပြည်မှ ထွက် သော နေ့၌ ပြင် သည် အ
တိုင်း၊ တဖန်အံ့ဩဘွယ်သောအမှုတို့ကိုငါပြ
၁၆ မည်။- လူအမျိုးမျိုးတို့သည်ငါ၏လူတို့၌ ရှိသမျှ
သော တန်ခိုးကိုမြင်၍ မိန်း မော တွေဝေ လျက်၊
မိမိတို့ နှုတ်ကို လက်နှင့်ပိတ်၍ နားပင်းကြလိမ့်
၁၇ မည်။- မြွေကဲ့သို့ မြေမှုန့်ကို လျက်၍၊ တီကဲ့သို့
တွင်းထဲက တုန်လှုပ်လျက် ထွက်ကြ လိမ့်မည်။
ငါတို့ဘုရားသခင်ထာဝရဘုရားကို၎င်၊ သင့်ကို
၎င် ကြောက် ရွံ့ကြလိမ့်မည်။
၁၈ အပြစ်မှ လွှတ်တော် မူထသော၊ ကျန် ကြွင်း
သော အမွေတော်လူတို့၏ လွန်ကျူးခြင်းများကို
သည်းခံတော်မူထသော၊ ကရုဏာ၌ မွေ့လျော်
သော့ကြောင့် အစဉ် အမျက် ထွက် တော် မမူ
သော ကိုယ်တော်ကဲ့သို့ အဘယ်ဘုရား ရှိပါသ
၁၉ နည်း။- ကိုယ်တော်သည် အကျွန်ုပ်တို့ကို တဖန်
သနား၍ ၊အကျွန်ုပ် တို့၏ ဒုစ ရိုက် ရှိသမျှ တို့ ကို
ကျော်နင်း တော် မူလိမ့် မည်။ အကျွန်ုပ်တို့၏ အ
ပြစ်အလုံးစုံတို့ကို နက်နဲသောပင်လယ် ထဲသို့ ချ

၁၉ မြင့်တော်မူလိမ့်မည်။ ဂျွဲကဝေါလဲတင်ဝါး
ဆိုအဲ့ပလင်း သံပြီးကျဉ်းကောင်းဖြင့် အ
ထိုအခါကျိန် ဆိုတော်မူသည်အတိုင်း၊ ထာဝရ သခင်၏အမြင့်အရပ်၌ ပုဂ္ဂိုလ်ကို ထော
ကျွေးရူပြုပြင်ကိုမီရှင်တော်မူလိမ့်မည်။

ပဆေးတတ်မိကွ ခံစိမ်ငရေးသေးထေထအနာဂတ္တိကျမ်းပြီး၏။

---

# နာဟုံအနာဂတ္တိကျမ်း။

## NAHUM

---

၁ ဧလကောရှ မြို့သား နာဟုံခံရ၍၊ နိနေဝေမြို့
နှင့် ဆိုင်သောရူပါရုံမိတ်တော်အဓိပ္ပာယ် ကုမ္ပဏီ။-
၂ အပြစ်ရှိသည်ကို၊ ထာဝရဘုရားသည်ဟုတ်တွက်
၍ဓါဏ်ပေးသော ဘုရားဖြစ်တော်မူ၏၊ ထာဝရ
ဘုရားသည် ဓါဏ်ပေး၍ အမျက်ပြင်းထန်တော်
မူ၏။ ထာဝရဘုရားသည်ရန်သတ်ပြုသောသူတို့
ကို ဓါဏ်ပေး၍၊ ရန်သူတို့ကို အငြိုးထားတော်မူ
၃ ၏။- ထာဝရဘုရားသည် မိတ်ရှည်တော်မူ၏။ တန်
ခိုးသည်းကြီးတော်မူ၏။ သို့ရာတွင်၊ အပြစ်တည်
သောသူတို့ကို အပြစ်မှ လွှတ်တော်မမူ။ ထာဝရ
ဘုရားသည်လေတွေ့နှင့်၊ မိုဃ်းသက်မုန်တိုင်း
နှင့်ကြွတော်မူ၍၊ မိုဃ်းတိမ်တို့သည်ခြေတော်
၄ အောက်၌မြေမှုန့်ကဲ့သို့ ဖြစ်ကြ၏။- ပင်လယ်ကို
ဆုံးမ၍ ခန်းခြောက်စေတော်မူ၏၊ ခပ်သိမ်းသော
မြစ်ရေကို ထည်း ကုန်စေတော်မူ၏၊ ဗာရှန်
တောင်နှင့် ကရမေလတောင်တို့သည် ညှိုးနွမ်း၍
၅ ကြ၏၊ လေဗနုန်အပွင့်သည်၊ ညှိုးနွမ်း၏။- ကိုယ်
တော်ကြောင့် တောင် တို့သည် တုန်လှုပ် လျက်၊
ကုန်းတို့သည် အရည်ကြိုလျက်၊ ရှေ့တော်၌မြေ
ကြီးနှင့် လော ကဓာတ် မှစ၍ လော ကသား အ
၆ ပေါင်းတို့သည်ရွေ့လျက်ရှိကြ၏။- အမျက်တော်
ရှေ့မှာအဘယ်သူရပ်နိုင်သနည်း၊ အမျက်တော်
အရှိန်ကို အဘယ်သူ ဆီးတား နိုင် သနည်း၊ မီး
တောက်ကဲ့သို့အမျက်ထွက်၍၊ ကျောက်တို့ကို
၇ ဖြိုချတော်မူ၏။- ထာဝရ ဘုရားသည် ကောင်း
တော်မူ၏၊ အမှု ရောက်သော အခါ ခဲ့ထိုက် ဖြစ်
တော်မူ၏။ကိုးစားသောသူတို့ကိုသိမှတ်တော်မူ၏။-
၈ ရန်သူနေရာကိုသွန်းမိုးသော မြစ်ရေနှင့်ဆုံးရှုံး
စေတော်မူသဖြင့်၊ ရန်သူတို့ကို မှောင်မိုက်လိုက်
ထိမ့်မည်
၉ ထာဝရဘုရား တစ်တက်၌ အဘယ်သို့ ကြံစည်
ကြံ သနည်း၊ အပြီးဆုံးရှုံး စေတော်မူမည်။ ထ
၁၀ ခန်နှစ်နှင်းစရာ အကြောင်း မရှိရ။- သူတို့သည်
ဆူးပင်ကဲ့သို့ အချင်းချင်း ညိုတွတ် လျက်၊ စပျစ်
ရည်နှင့်ထစ်မူးသကဲ့သို့ဖြစ်လျက်၊ သွေ့ခြောက်
သောအမှိုက်ကဲ့သို့မီးလောင်ခြင်းကိုခံရကြလိမ့်
၁၁ မည်။-ထာဝရဘုရားတစ်တက်၌မကောင်းသောအ
ကြံကိုကြံစည်သော အစွေထိုင်ပင်အမတ်သည်
၁၂ သင့်အထဲက ပေါ်ထွက်ပြီ။- ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ သူတို့သည်စုံထင်၍ အရေအ
တွက်အားဖြင့် များပြားသော်လည်း၊ ဆုံးရှုံး၍
ကွယ်ပျောက်ရကြလိမ့်မည်။သင့်ကိုငါညှဉ်းဆဲ
၁၃ သော်လည်းနောက်တဖန်မညှဉ်းဆဲ။- ယခု
မှာ သင်၌သူတင်သော ထမ်းပိုးကို ငါ ချိုးမည်
၍၊ချည်နှောင်သောကြိုးတို့ကိုလည်းဖြတ်မည်။-
၁၄ သင်၏ အမှု၌ ထာဝရ ဘုရား မိန့်တော်မူသည်
ကား၊သင်၏အမျိုးမဆက်မနွယ်ရ၊ထုလုပ်သောရုပ်
တုနှင့် သွန်းသော ရုပ်တု တို့ကို သင်၏ ဘုရား
ကျောင်းမှငါပယ်ရှင်းမည်၊ သင်သည်ယုတ်မာ
သောကြောင့်သင်၏သင်းချိုင်းကို ငါတူးမည်။-
၁၅ ငြိမ်သက်ခြင်း၏ဝမ်းမြောက်စရာသိတင်းကောင်း
ကိုကြား ပြောသောသူ၏ ခြေတို့ကိုတောင်ပေါ်
မှာကြည့်ကြလော့၊ ယုဒပြည်သားတို့၊ သင်၏ပွဲနေ့
ကိုခံလော့၊ သစ္စာဂတိထားသည်အတိုင်းသစ္စာ
ဝတ်ကိုဖြေလော့၊ အဓမ္မလူသည် ရှင်းလင်းပယ်
ဖြတ်ခြင်းကို ခံရ သောကြောင့်၊ နောက်တဖန်
သင့်ကိုမကျော်မနင်းရ။

၁ ဖျက်ဆီးသောသူသည်သင့်ရှေ့သို့ရောက်လာ
ပြီ။ သင်၏ ရဲတိုက်ကို သတိပြုလော့။ လမ်းကို
စောင့်လော့။ ကိုယ်ခါးကို ခိုင်ခံ့စေလော့။ ကြွပ်
၂ ကြွပ်အားယူလော့။- အကြောင်းမူကား၊ ထာ
ဝရဘုရားသည် ဣသရေလ၏ ဘုန်းကဲ့သို့ ယာ
ကုပ်၏ဘုန်းကိုပြုပြင်တော်မူ၏။ သုတ်သင်သော
သူတို့သည် ယာကုပ်အမျိုးကိုသုတ်သင်၍၊ သူ၏
၃ အခက်အလက်တို့ကို ပယ်ရှင်းကြပြီ။- သူရဲတို့
သည် နီသောဒိုင်းလွှားကို ဆောင်၍၊ နီသောအ
ဝတ်ကို ဝတ်ကြ၏။ ခင်းကျင်းသောနေ့၌ ရထား
တို့သည်သံလက်နက်နှင့် တောက်ပ၍၊ လှံတံတို့
၄ သည်အသွန်လှုပ်ရှားကြ၏။- ရထားတို့သည်
လမ်း၌ဟုန်းဟုန်းမြည်၍၊ လမ်းမတို့၌ တောင်
ပြောင်ပြေးကြ၏။ မီးရှူးအဆင်းအရောင်ရှိ၍၊
၅ လျှပ်စစ်ကဲ့သို့ ပြေးကြ၏။- စစ်သူရဲ တို့ကို နှိုး
ဆော်တော်မူ၏။ သူတို့သည်ရှိသွားစဉ်သူတပါး
တို့တွန်းချကြ၏။ မြို့ရိုးသို့ အလျင်အမြန် သွား၍
၆ ဖြို့ဆိုးတို့ကိုပြင်ဆင်ကြ၏။- မြစ်တံခါးပွင့်လျှင်၊
နန်းတော်သည် ကွယ်ပျောက်၏။ နိနေဝေသတို့
၇ သမီးကို အဝတ်ချွတ်၍ ထုတ်ရ၏။- အပျိုတော်
တို့သည် ချိုးကဲ့သို့ကျူ၍ ရင်ပတ်ကိုတီးလျက်ငိုက်
၈ ရကြ၏။- ရှေးကာလမှစ၍ နိနေဝေမြို့သည်ရေ
ကန်ကဲ့သို့ဖြစ်၏။ ယခုမူကား၊ ရေတို့သည် စီး
ထွက်ကြ၏။ ရပ်ကြ၊ ရပ်ကြဟုဟစ်သော်လည်း၊
၉ အဘယ်သူမျှ ပြန်၍မကြည့်။- ငွေကိုလုယူကြ၊
ရွှေကိုလည်းလုယူကြ။ နှစ်သက်ဖွယ်သောတန်
ဆာများကို ဘဏ္ဍာတိုက်တော်ထဲက ထုတ်၍မကုန်
၁၀ နိုင်။- မြို့တော်သည်ဟင်းလင်းနေရ၏။ ဥစ္စာမရှိ၊
လူဆိတ်ညံလျက်ဖြစ်၏။ မြို့သားအပေါင်းတို့သည်
စိတ်ပျက်လျက်၊ ဒူးချင်းထိခိုက်လျက်၊ အလွန်ခါး
ကိုက်လျက်၊ မျက်နှာမည်းလျက်ရှိကြ၏။
၁၁ ခြင်္သေ့နေရာအရပ်၊ ခြင်္သေ့ပျိုစားရာအရပ်၊
ခြင်္သေ့၊ ခြင်္သေ့မ၊ ခြင်္သေ့ကလေးတို့သည် အ
ဘယ်သူမျှမကြောက်စေဘဲ၊ ကျက်သရာအရပ်
၁၂ သည် အဘယ်မှာရှိသနည်း။- ခြင်္သေ့သည်သား
ငယ်များအဘို့ကိုက်ဖြတ်လျက်၊ ခြင်္သေ့မအဘို့လည်း
လည်ကို ညှစ်လျက်၊ လုယူဖျက်ဆီးသော အ
ကောင်များကိုဆောင်ခဲ့၍ မိမိဂူရိုရာ တွင်းတို့ကို
၁၃ ပြည့်စေတတ်၏။- ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရားမိန့်တော်မူသည်ကား၊ သင့်တဘက်၌
ငါနေ၏။ သင်၏ ရထားတို့ကို မီးခိုးထဲမှာ မီးရှို့
မည်။ သင်၏ ခြင်္သေ့ပျိုတို့ကို ထားဖြင့် ဖျက်ဆီး
မည်။ သင်လုယူသောဥစ္စာကိုမြေကြီးမှပယ်ရှင်း
မည်။ သင်၏သံတမန်တို့စကားသံကို နောက်တ
ဖန်အဘယ်သူမျှမကြားရ။

၃

၁ လူအသက်ကိုသတ်တတ်သောမြို့၌အမင်္ဂလာ
ဖြစ်စေသော၊ လှည့်စားခြင်း၊ အနိုင်အထက်ပြု
ခြင်းနှင့် ပြည့်ဝ၏။ ဖမ်းမိသော အရာကို မလွှတ်
၂ တတ်။- နှင်တံနှင့် ရိုက်သံ၊ လှည်းဘီးလိမ့်သံ၊
၃ မြင်းခုန်သံ၊ ရထားပြေးသံကိုကြားရ၏။- မြင်းစီး
သူရဲသည်မီးတောက်သောထား၊ လျှပ်စစ်ဖြစ်
သောလှံကိုချီလျက်၊ တိုက်သောသူရဲအများနှင့်
သေသော သူအပုံပုံရှိကြ၏။ အသေကောင်တို့
ကိုရေတွက်၍ မကုန်နိုင်။ လူသေကောင်များကို
၄ ထိမိ၍လဲတတ်ကြ၏။- အဆင်းလှ၍ ပြုစားတတ်
လျက်၊ မတရားသော ဂမုန်အမှုနှင့်စုန်းမအ
တတ်အားဖြင့်၊ လူအမျိုးမျိုးအနွယ်နွယ်တို့ကို
ကုန်သွယ်လုပ်တတ်သောပြည်တန်ဆာသမီးအညီ
မတရားသော မေစုန်ကို ပြုဖန် များပြားသော
ကြောင့်၊- ကောင်းကင် ဗိုလ်ခြေအရှင် ထာဝရ
ဘုရားမိန့်တော်မူသည်ကား၊ သင့်တဘက်၌ငါနေ
၏။ သင့်အဝတ်ကိုသင်၏မျက်နှာပေါ်မှာ လှန်၍
အတိုင်းတိုင်းအပြည်ပြည်ရှေ့မှာသင်၌အချည်း
၆ စည်းရှိခြင်း၊ အရှက်ကွဲခြင်းကိုငါပြမည်။- သင်
၌မစင်ကို ပြစ်၍ ညစ်ညူးစေပြီးမှ၊ သူတပါးတို့
၇ ကြည့်ရာထားမည်။- သင့်ကိုမြင်သမျှသောသူ
တို့က၊ နိနေဝေမြို့ ပျက်စီးပြီ။ အဘယ်သူ မြည်
တမ်းမည်နည်းဟု ဆိုလျက်၊ သင့်ထံမှ ပြေးကြ
လိမ့်မည်။ နှစ်သိမ့်စေသော သူတို့ကို သင့်အဖို့
အဘယ်မှာငါရှာ၍ရနိုင်သနည်း။
၈ သင်သည် မြစ်ကြားမှာတည်သော နောအမုန်မြို့
ထက်ကြီးမြတ်သလော။ ထိုမြို့ကိုရေဝိုင်းလျက်၊
ပင်လယ်သည် မြို့ကျုံး ဖြစ်၏။ မြို့ရိုးလည်း ပင်
လယ်နှင့်စပ်သတည်း။- အဲသယောပိပြည်နှင့်
အဲဂုတ္တုပြည်သည် သူ၏ လက်နက် ဖြစ်၏။ ရေ
တွက်၍မကုန်နိုင်။ ဖုတ်ပြည်နှင့်လိဗုပြည်လည်း
၁၀ သူ၏လက်နက်အဝင်ဖြစ်၏။- သို့သော်လည်း၊ ထို
မြို့ကိုရန်သူတို့သည် တိုက်၍ သိမ်းသွားကြပြီ။
မြို့သားငယ်တို့ကို လမ်းဦးရှိသမျှ တို့၌ ရိုက်ခွဲ
လျက်၊ ဂုဏ်အသရေရှိသော မြို့သားတို့ကို စာ
ရေးတံချလျက်၊ အားကြီးသောမြို့သားအပေါင်း
တို့ကို သံကြိုးဖြင့် ချည်နှောင်လျက် ပြုကြပြီ။

၁၁ သင်သည် ထည်း၊ မိန်းမော တွေဝေ လျက် ဝှန်၊
ရှောင်၍နေရလိမ့်မည်၊ ရန်သူ၏ထက် နှင့် လွတ်
အောင် မှိုင်ခံ့သော အရပ်ကို ရှာရလိမ့်မည်။-
၁၂ သင် ၏ ရဲ တိုက် ရှိ သမျှ တို့သည် ရှေဦး စွာ မှည့်
သောအသီးကို သီးသော သင်္ဘောသဖန်း ပင်နှင့်
တူ ကြ လိမ့်မည်၊ လှုပ်လှုပ် စားချင်သော သူ၏
၁၃ ပစပ်ထဲသို့ကျလိမ့်မည်။-သင်၏လူတို့သည်သင့်
အထဲ၌ မိန်းမကဲ့သို့ဖြစ်၍၊ ပြည်တံခါး ထိုသည်
ရန်သူတို့အား ကျယ်ကျယ် ပွင့်လျက်၊ ကန့်လန့်
၁၄ ကျင်တို့သည် မီးလောင်လိမ့်မည်။- ရန်သူ ဝိုင်း
ထားသော ကာလတို့ ရေကို ခပ်ထား လော့၊ ရဲ
တိုက်တို့ကို မှိုင်ခံ့စေလော့၊ ရွှံ့ထဲသို့ဝင်၍ အုတ်
မြေကိုနင်းနယ်လော့၊ အုတ်မိုကိုပြင်ဆင်လော့။-
၁၅ ထိုအရပ်၌ပင်သင့်ကိုမီးလောင်လိမ့်မည်၊ ထား
နှင့် ခုတ်ဖြတ် လိမ့်မည်၊ ထာထက်ကျိုင်း ကိုက်
စားသကဲ့သို့ကိုက်စားလိမ့်မည်၊ထာထက်ကျိုင်း
နှင့်အရာသကျိုင်းကောင်တို့သည် များသကဲ့သို့
သင် ၏ လူတို့ကို များပြား စေခြင်း ငှါ ကြိုး စား
၁၆ လော့။- မိုဃ်း ကောင်း ကင် ကြယ် များ သည်
ထက်၊ သင်၏ကုန်သည်တို့ကို များပြားစေသော်
လည်း၊ ထာထက်ကျိုင်းတို့သည် နှံ့ပြား၍ ပျံသွား
၁၇ တတ်ကြ၏။- သင်၏မင်းသားတို့သည် အရာထ
ကျိုင်းကဲ့သို့၎င်း၊ မိုလ်တို့သည်ဂေါထ ကျိုင်းကဲ့သို့
၎င်းဖြစ်၍၊ ချမ်းသော အခါ ခြောင်ရန်းနားမှာဝပ်
တတ် ကြ၏၊ နေထွက် သော အခါ ပျံသွား၍ အ
၁၈ ထယ် အရပ်သို့ ရောက်သည်ကို မသိရ။- အိုအာ
ရှုရိ ရှင် ဘုရင်၊ သင်၏ သိုး ထိန်း တို့သည် အိပ်
ပျော် လျက်၊ သင်၏ မှူးမတ် တို့ သည် ကျိန်းဝပ်
လျက်၊ သင်၏ လူ အပေါင်း တို့သည် တောင်မိုး
ပေါ်မှာအရပ်ရပ်သို့ကွဲပြားလျက်ရှိ၍၊ အထယ်
သူမျှ မ စုဝေး စေ၊ သင်၏ အနာ မ ပျောက် နိုင်၊
ပြင်းစွာ ခံရ ၏၊ သင်၏ သိတင်း ကို ကြား သမျှ
သောသူတို့သည် သင့် အပေါ်မှာ လက် ခုတ် တီး
ကြ လိမ့်မည်၊ အကြောင်းမူကား၊ သင်ပြုသော
အဓမ္မအမှုကိုမခံဘဲလွတ်သောသူကားအဘယ်
သူနည်း။

ပရောဖက်နာဟုံမိရင်ရေးထားသော အနာဂတ္တိကျမ်းပြီး၏။

---

# ဟဗက္ကုတ်အနာဂတ္တိကျမ်း။

## HABAKKUK.

၁

၁ ပရောဖက်ဟဗက္ကုတ်ခံရသော ဗျာဒိတ်တော်
၂ အချက် ဟူမူကား။- အို ထာဝရ ဘုရား၊ ကိုယ်
တော်သည်ကြားတော်မမူဘဲ၊အဘယ်မျှကာလ
ပတ်လုံး အကျွန်ုပ် အော် ဟစ် ရပါ မည် နည်း။
ကယ်တင်တော်မမူဘဲ အကျွန်ုပ်သည် အဓမ္မ အ
မှုကိုခံ၍၊ ရှေ့တော်၌အဘယ်မျှကာလပတ်လုံး
၃ အော်ဟစ် ရပါ မည်နည်း။- မတရားသော အ
မှုကို အကျွန်ုပ်အား အဘယ်ကြောင့် ပြတော်မူ
သနည်း၊ အဓမ္မအမှုကို အဘယ်ကြောင့် မြင်စေ
တော်မူသနည်း၊ လုယူခြင်း၊ အနိုင် အထက် ပြု
ခြင်း၊အမှုသည်အကျွန်ုပ်ရှေ့မှာအဘယ်ကြောင့်
ရှိရပါသနည်း၊ ငြင်းခုံခြင်း၊ ရန်တွေ့ခြင်းကိုလည်း
၄ အဘယ်ကြောင့်လူတို့ပြုရပါသနည်း။- ထို့ကြောင့်
၍တရားလျော့ပါ၏၊တရားသဖြင့်စီရင်ဆုံးဖြတ်
ခြင်းမရှိပါ၊မတရားသောသူတို့သည်ဖြောင့်မတ်
သောသူတို့ကိုဝိုင်းသောကြောင့်၊မတရားသဖြင့်
၅ စီရင်ဆုံးဖြတ်ကြပါ၏။- သာသနာပ လူမျိုး၊
ကြည့်ရှုဆင်ခြင်၍ အလွန်မှိုင်တွေကြလော့၊ အ
ကြောင်းမူကား၊ သင်တို့အား သူတပါး ပြောသန်
သော် လည်း၊ သင်တို့ မယုံသော အမှု ကို သင်တို့
၆ ထက်ထက် ကာလ၌ငါပြု၏။- ပြင်းထန်လျင်မြန်
သော ခါလဒဲအမျိုးကိုငါနှိုးဆော်၏၊ ကိုယ်ပိုင်
သောနေရာ အရပ်တို့ကို သိမ်းယူခြင်းငှါ မြေတ
၇ ပြင်လုံး၌ရှိသွားကြလိမ့်မည်။- အလွန်ကြောက်
မက်ဖွယ်သောသူဖြစ်၍ကိုယ်အလိုအလျောက်
၈ တရား စီရင်ဆုံးဖြတ်ကြ၏။- သူတို့၏မြင်းသည်
ကျားသစ်ထက်လျင်မြန်၏၊ ညဉ့်၌ရှိသော

သော ဒေ သ ႏ္တက်ကြ ဖြစ်တော်တော်မြင်းမိုးထူရဲထို
ထဦးဧဝကာလာ၍ ပုန်ကြလိမ့်မည်။ အကောင်
ကို ကိုက်စားခြင်းငှါ လျင်မြန်သော ရှူထင်းတ
၉ တဲ့သို့ ပျံလာကြလိမ့်မည်။- ထိုသူ အပေါင်း တို့
သည် ညှဥ်းဆဲခြင်းငှါလာကြ၏။ ရှေ့သို့သာရှုကြ
၍ဘ ပြုသော အထုံး အရင်း ဖြစ်၍၊ ဝမ်းမိသော
သူတို့ကိုသဲလုံးနှင့် အမျှ စုဝေးစေကြလိမ့်မည်။-
၁၀ ရှင်ဘုရင်တို့ကို သားမနား မင်းများတို့ကို ရှုတ်
ရယ်ပြုကြလိမ့်မည်။ ခဲတိုက်ရှိသမျှတို့ကို ကဲ့ရဲ့
လျက်၊ မြေမှုန့်ကို ပုံ ထား၍ တိုက် ယူ ကြ လိမ့်
၁၁ မည်။-ထိုနောက်၊သူတို့သည်သဘောပြောင်းလဲ
လျှက်လွန်ကျူး၍အပြစ်ခံရကြလိမ့်မည်။ မိမိတို့
တန်ခိုးသည် မိမိတို့ဘုရားဖြစ်သည်ဟုထားး
၁၂ အိုထာဝရ ဘုရား၊ အကျွန်ုပ်၏ ဘုရားသခင်၊
သန့်ရှင်းတော်မူသောဘုရား၊ ကိုယ်တော်သည်
နိစ္စထာဝရတည်တော်မူသည် မဟုတ်လော။ သို့
ဖြစ်လျှင်၊ အကျွန်ုပ်တို့သည်သေခြင်းနှင့်ကင်း
လွတ်ကြပါမည်။ အိုထာဝရဘုရား၊ အကျွန်ုပ်တို့
ကို စစ်ကြောစေခြင်းငှါသူတို့ကို ခန့်ထား တော်
မူပြီ။ အိုကျောက်ထရံ၊ ဆုံးမစေခြင်းငှါ သူတို့ကို
၁၃ နေရာချတော်မူပြီ။-ကိုယ်တော်သည်ဒုစရိုက်ကို
ကြည့်ရှုတော်မမူအံ့သောင်စင်းသောမျက်စိရှိတော်
မူ၏။ အဓမ္မအမှုကိုကြည့်ရှု၍ နေတော်မမူတတ်
ပါ။ သို့ဖြစ်၍၊သစ္စာပျက်သောသူတို့ကိုအဘယ်
ကြောင့်ကြည့်ရှု၍နေတော်မူသနည်း။ အဓမ္မလူ
သည်မိမိထက်ဖြောင့်မတ်သောသူကို ကိုက်စား
သောအခါ၊ အဘယ်ကြောင့် ဆိတ်ဆိတ် နေ
၁၄ တော်မူသနည်း။- လူသတ္တဝါ ထို့ကိုသည်။ ပင်
လယ်ငါးကဲ့သို့၎င်း၊ မင်းမရှိသော ပိုးကောင် ကဲ့
သို့၎င်း အဘယ်ကြောင့် ဖြစ်စေတော်မူသနည်း။-
၁၅ ရန်သူသည် ထိုသူ အပေါင်း တို့ကို ငါးမျှားနှင့်
မျှားလျက်၊ ကွန်နှင့်ဖမ်းလျက်၊ ပိုက်နှင့် ဖျောင်
၁၆ လျက် ဝမ်းမြောက် ရွှင်လန်း တတ်၏။- မိမိကွန်
အားယဇ်ပူဇော်၍၊ မိမိပိုက်အား နံ့သာပေါင်း
ကိုမီးရှို့တတ်၏။အကြောင်းမူကား၊ထိုတန်ဆာ
၁၇ အားဖြင့် ဥစ္စာရတတ်၍ဝစွာစားရ၏။- သို့ဖြစ်
၍၊ သူသည် ပိုက် ကွန် ထဲ က ငါး ထို့ ကို ထုတ်၍
ထောင်းရပါမည်လော။လူအမျိုးမျိုးတို့ကိုမနှမြော
မြောဘဲအစဉ်လုပ်ကြံရပါမည်လော။

၂

၁ ငါသည်စောင့်စင်ပေါ်မှာရပ်လျက်၊ ခံတိုက်၌
စောင့်နေလျက်အဘယ်သို့မိန့်တော်မူမည်
ကိုငြင်း၊ အပြစ်တင်လျှင် အဘယ်သို့ပြန်လျှောက်
၂ ရမည်ကိုငြင်း ငါစောင့်၍ နေစဉ်တွင်၊- ထာဝရ
ဘုရားကလည်း၊ စာတ်သောသူသည်ပြေးလျက်
ဖတ်နိုင်သောင်းဗျာဒိတ်ရူပါရုံကိုသင်ပုံးပေါ်မှာ
၃ အက္ခရာတင်၍ရေးမှတ်လော့။- ထိုရူပါရုံသည်
ချိန်းချက်သောအချိန်နှင့်ဆိုင်၍အမှုကုန်ရသော
ကာလကို ဆိုလို၏။ မုသာနှင့်ကင်းလွတ်၏။ ဆိုင်း
သော် လည်း မျှော်လင့် လော့။ နောက် မ ကျဘဲ
၄ ကေန်အမှန်ရောက်လိမ့်မည်။-စိတ်မြင့်သောလူ
သည် သဘော မဖြောင့်။ ဖြောင့်မတ်သော သူမူ
ကား၊ မိမိ ယုံကြည်ခြင်း အားဖြင့် အသက် ရှင်
၅ လိမ့်မည်။- ထိုမှတပါး၊ စပျစ်ရည်နှင့် ဖောက်ပြန်
သောသူသည် သစ္စာပျက်တတ်၏။ မာန ထောင်
လွှားသောသူသည်ကိုယ်နေရာ၌မနေနိုင်ဘဲ၊မိမိ
သောတကို မရဏာနိုင်ငံကဲ့သို့ ကျယ်စေ လျက်၊
သေမင်းကဲ့သို့မပြေနိုင်သောစိတ်ရှိလျက်၊ ထိုင်း
သူနိုင်ငံသား အမျိုးမျိုးအပေါင်းတို့ကို မိမိထံသို့
၆ ဆွဲငင်၍ စုဝေးစေ၏။- ထိုသူအပေါင်း ထို့သည်
သူတမက်၌ပုံစကားနှင့်ကဲ့ရဲ့သောနိမိတ်စကား
ကိုသုံးဆောင်လျက်၊ ကိုယ်မပိုင်သော ဥစ္စာကို
အည်းပွားသောသူသည်အမင်္ဂလာရှိ၏။ အဘယ်
မျှကာလပတ်လုံး ကိုယ်အပေါ်မှာ ကြွေးများကို
တင်စေပါ လိမ့်မည်နည်းဟု မြွက် ဆို ကြမည်မ
၇ ဟုတ်လော။- သင့်ကို ကိုက် သော သူတို့ သည်
ချက်ချင်း ထကြမည်မဟုတ် လော။ နှောင့်ရှက်
သောသူတို့သည် နိုးကြမည် မဟုတ်လော။ သင်
၈ သည် သူတို့လုယူရာ ဖြစ်လိမ့်မည်။- သင် သည်
များစွာသော လူမျိုးတို့ကို လုယူသော ကြောင့်၊
ကျန်ကြွင်းသော လူမျိုးအပေါင်း တို့သည် သင့်
ကိုလုယူကြလိမ့်မည်။လူအသက်ကို သတ်သော
အပြစ်၊ပြည်သူမြို့သားအပေါင်းတို့ကိုညှဉ်းဆဲ
သောအပြစ်ကြောင့်ပြုကြလိမ့်မည်။
၉ မိမိအသိုက်ကိုမြင့်သောအရပ်၌ တင်၍ဘေး
ဒါဏ်ယက်မှ မိမိ လွတ်စေခြင်းငှါ၊ မကောင်း
သော အစွမ်းပွားကို မိမိအမျိုးအဖို့ ရှာသော
၁၀ သူသည်အမင်္ဂလာရှိ၏။-သင်သည်လူများတို့ကို
လုပ်ကြံသောအားဖြင့် ကိုယ်အမျိုးကို အရှက်
ကွဲစေခြင်းငှါ ကြံစည်၍၊ ကိုယ်အသက်ကို ပြစ်
၁၁ မှားပြီ။- အကယ်စင်စစ် ကျောက် တလုံး သည်
ကျောက်ထရံထဲကဟစ်ခေါ်၍၊ ထုပ်တချောင်း
၁၂ သည် သစ်သားစုထဲကထူးသော်၏။- လူအသက်
ကိုသတ်သောအပြစ်နှင့် မြို့ကို တည် သော သူ၊

အစဉ်အမြဲနှင့် မြို့ကိုမိုဂ်နှံစေသောသူသည်အမင်္ဂ
၁၃ လာရှိ၏၊- လူများတို့သည်မီးထဲမှာထုတ်ဆောင်
၍၊ အမျိုးမျိုး တို့သည် အချည်းနှီး သော အမှု၌
ပင်ပန်းစေခြင်းငှါ၊ ကောင်းကင် ဗိုလ်ခြေ အရှင်
၁၄ ထာဝရ ဘုရား မိရင်တော် မူပြီ။- အကြောင်းမူ
ကား၊ ပင်လယ် ရေ သည် မိမိ နေရာကို လွှမ်းမိုး
သကဲ့သို့၊ မြေကြီးသည် ထာဝရ ဘုရား၏ ဘုန်း
တော် ကို သိကျွမ်းခြင်း ပညာ နှင့် ပြည့် စုံ လိမ့်
၁၅ မည်။- မိမိ အိမ်နီးချင်း၌ အဝတ်အချည်းစည်း
ရှိခြင်းကို မြင်လို၍၊ သူကိုယစ်မူးစေခြင်းငှါသေ
ရည် သေရက်ကိုလောင်း၍ သောက်စေသောသူ
၁၆ သည် အမင်္ဂလာရှိ၏၊- သင်သည်အသရေပျက်
၍ အရှက် ကွဲခြင်း နှင့် ဝ လိမ့်မည်၊ ကိုယ် တိုင်
သောက်၍ အဝတ် ချွတ် ခြင်း ကို ခံရလိမ့်မည်၊
ထာဝရ ဘုရား ၏ လက်ျာ လက်တော်၌ ရှိသော
ဖလား သည် သင့် ဆီသို့ ရောက်၍၊ ရွံ့ ရှာ ဖွယ်
သောအော့အန်ခြင်းသည်သင့်အသရေကိုလွှမ်း
၁၇ မိုးလိမ့်မည်။-လေဗနုန်တောင်ကိုအနိုင်အထက်
ပြုသောအပြစ်၊ တိရိစ္ဆာန်များကို ကြောက်မက်
ဖွယ်သော အခြင်းအရာနှင့် ဖျက်ဆီးသော အ
ပြစ်သည်သင့်ကိုလွှမ်းမိုးလိမ့်မည်၊ လူအသက်
ကိုသတ်သောအပြစ်၊ ပြည်သူမြို့သားအပေါင်း
တို့ကိုညှဉ်းဆဲသောအပြစ်ရှိ၏။
၁၈ ထုလုပ်သောရုပ်တုသည် အဘယ်အကျိုးကို
ပေး၍၊ ထက်သမား သည် ထုလုပ် ရသနည်း၊
သွန်းသောရုပ်တုနှင့် မိစ္ဆာဆရာသည် အဘယ်
အကျိုးကိုပေး၍၊ လုပ်သောသူသည်မိမိအလုပ်
ကိုမှီခိုလျက်၊ စကားအသောရုပ်တုတို့ကိုလုပ်ရ
၁၉ သနည်း။- သစ်သားအား၊ နိုးတော်မူပါဟု၍၎င်း၊
စကားအသော ကျောက်အား၊ ထတော်မူပါဟု
၍၎င်းဆိုသော သူသည်အမင်္ဂလာရှိ၏၊ ထိုအရာ
သည် သွန်သင်လိမ့်မည်လော၊ ရွှေငွေနှင့် ရွမ်းမံ
လျက်ရှိ၏၊ အတွင်း၌အသက်အလျှင်း မရှိပါတ
၂၀ ကား။-ထာဝရဘုရားမူကား၊သန့်ရှင်းသောဗိမာန်
မှန်တော်၌ ရှိတော်မူ၏၊ မြေကြီးသား အပေါင်း
တို့၊ရှေ့တော်၌ငြိမ်ဝပ်စွာနေကြလော့။

၃

၁ ပရောဖက်ဟဗက္ကုတ်၏ ပဌနာစကားတည်း
၂ ဟူသောရှိဂျောနုတ်သီခြင်း။-အိုထာဝရဘုရား၊
အကျွန်ုပ် သည် ကိုယ်တော်၏ ဗျာဒိတ်တော် သံ
ကိုကြား၍ ကြောက်ရွံ့ပါပြီ၊ အိုထာဝရဘုရား၊
သက္ကရာဇ်များ အလယ် အမှုတော်ကို ပြုပြင်
တော်မူပါ၊ ထိုနှစ်များ အတွင်းအခွင် ထင်ရှား
စေတော်မူပါ၊အမျက်ထွက်တော်မူသော်လည်း
ကရုဏာတရားကိုအောက်မေ့တော်မူပါ။
၃ ဘုရားသခင်သည် တေမန်မြို့မှ၎င်း၊ သန့်ရှင်း
သောဘုရားသည် ပါရန်တောင်မှ၎င်း ကြွတော်မူ
၏၊ ဘုန်းတော်သည် မိုဃ်းကောင်းကင်ကို ဖုံး
အုပ်လျက်၊ မြေကြီးသည် ဂုဏ်အသရေ တော်
၄ နှင့်ပြည့်စုံလျက်ရှိ၏။- အဆင်းအရောင် တော်
သည် နေရောင်ကဲ့သို့ဖြစ်၏၊ လက်တော်မှ ရောင်
ခြည်သည် ထွက်၍၊ ဘုန်းအာနုဘော် တော်ကို
၅ ကွယ်ကာထေ၏။- ရှေ့တော်၌ ကာလနာ ထေး
သည်သွား၍၊ပူလောင်ခြင်းဘေးသည်ခြေတော်
၆ ကိုခြံရံလျက်ရှိ၏။-ရပ်၍မြေကြီးကို တိုင်းတော်
မူ၏၊ ကြည့်ရှု၍လူမျိုးတို့ကို တုန်လှုပ်စေတော်မူ
၏၊ အစဉ်အမြဲတည်သောတောင်တို့သည် ကျိုး
ပဲ့၍၊ ထာဝရကုန်းမိုးတို့သည် ညွှတ်ကြ၏၊ ထာ
၇ ဝရထမ်းတို့ကိုကြွတော်မူ၏။- ကုရှန်ပြည်၌ ထဲ
တို့သည်ဆင်းရဲခံခြင်း၊ မိဒျန်ပြည်၌ကုလားကာ
တို့သည်လှုပ်ရှားခြင်းကိုငါမြင်၏။
၈ အိုထာဝရဘုရား၊ကိုယ်တော်သည်ကယ်တင်
ရာ မြင်း၊ ရ ထား တော် ကို စီး တော် မူ စဉ် အ
ကြောင်း၊ မြစ် တို့ကို အမျက် ထွက် တော် မူ သ
လော၊မြစ်များတော့လက်၌မိတ်ထတော်မူသလော၊
၉ ပင်လယ်ကို ရန်ပြုံး ဖွဲ့တော် မူသလော၊- ကိုယ်
တော်သည်အမျိုးအနွယ်တော်တို့၌ ထားတော်
မူသော သစ္စာ ဂတိရှိသည် အတိုင်း၊ လေးထက်
နက်တော်ကိုထုတ်ပြတော်မူ၏၊ မြေကြီး၌မြစ်တို့
၁၀ ကိုပေါက်စေတော်မူ၏၊- တောင်တို့သည် ကိုယ်
တော်ကိုမြင်၍ တုန်လှုပ်ကြပါ၏၊ လျှံသော ရေ
သည်လွှမ်းမိုးပါ၏၊ပင်လယ်သည်အော်ထ၍
၁၁ လက်ကိုချီပါ၏။- နေနှင့်လသည် မိမိတို့နေရာ၌
ရပ်၍နေပါ၏၊ သူတို့ အလင်း၌ မြား တော် ထို
သည်သွား၍၊ သူတို့ရောင်ခြည်၌ လှံတော်သည်
၁၂ ထည်း လျှပ်စစ်ပြက်ပါ၏။- အမျက်တော်ထွက်
လျက် တပြည်လုံး ရှိသွား၍၊ ဒေါသ မိတ်နှင့် လူ
၁၃ အမျိုးမျိုးတို့ကိုနင်းနယ်တော်မူ၏။- ကိုယ်တော်
၏လူတို့ကိုကယ်တင်ခြင်း၊ကိုယ်တော်ပေးဆော်
မူ၍ ဘိသိတ်ခံသော သူတို့ကိုကယ်တင်ခြင်းအ
လို့ငှါ ထွက် ကြွ တော် မူ၏၊ ဆိုးသူ ၏ အိမ်၌
ဦးခေါင်းကိုနှိပ်စက်၍၊မူလအမြစ်ကိုထည်ပယ်း
၁၄ ထိုင်ဘောင်ပယ်ရှင်းတော်မူ၏။- မိုက်ယင်းတို့၏
ဦးခေါင်းကို မြားတော်ဖြင့် ထုတ်ချွင်းတော်မူ၏

တော်မူ၏။ ထိုသူတို့သည်အကျွန်ုပ်တို့ကိုလွင့်စေ
ခြင်းငှါ လေပြင်းမုန်တိုင်းကဲ့သို့ တိုက်ကြပါ၏။
ဆင်းရဲ သား တို့ကို အမှတ်တမဲ့ ကိုက်စား မည်
၁၅ အကြံ ရှိသကဲ့သို့ ဝမ်းမြောက် ကြ ပါ၏။- ကိုယ်
တော် သည် မြင်း တော် များကို စီး၍၊ ရေ ထုန်း
ထုန်း မြည် သော ပင်လယ် အလယ် သို့ ရှိ သွား
တော်မူ၏။
၁၆ ဗျာဒိတ်တော်သံကို ငါကြားသောအခါ ရင်၌
ထွေပ်ရှားခြင်း၊ မေးခိုင် ခြင်း၊ အရိုးဆွေးမြေ့ခြင်း၊
တကိုယ်လုံးတုန်လှုပ် ခြင်း ရှိ၏။ အကြောင်း မူ
ကား၊ အမှုရောက်သောနေ့၊ လုပ် ကြံ သော သူ
သည် ငါ ၏ လူ မျိုး ကို တိုက် လာ သော နေ့ တိုင်
၁၇ အောင် ငါသည်နေရစ်ရမည်။- သင်္ဘောသဖန်း
ပင် မ ပွင့်ရ၊ စပျစ်ပင်မသီးရ၊ သံလွင်ပင်၏ကျေး
ဇူးကိုမျှော်လင့်၍မခံရ၊ လယ်တို့သည်အသီးအနှံ
ကိုမပေးရ၊ သိုးခြံ၌သိုးကုန်၍တင်းကုပ်၌နွားမရှိရ။-
၁၈ ထိုသော်လည်း၊ ထာဝရဘုရား၌ငါဝမ်း
မြောက်၍၊ ငါ့ကို ကယ်တင်တော်မူသော ဘုရား
၁၉ သခင်ကိုအမှီပြုလျက် ရွှင်လန်းမည်။-အရှင်ထာ
ဝရဘုရားသည်ငါ၏အစွမ်းသတ္တိဖြစ်တော်မူ၏။
ငါ့ခြေကိုသမင်ခြေကဲ့သို့ဖြစ်စေ၍၊ ငါ၏မြင့်ရာအ
ရပ်ပေါ်မှာငါ့ကိုနေရာချတော်မူမည်။

ဟဗက္ကုတ်စီရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

---

# ဇေဖနိအနာဂတ္တိကျမ်း။
## ZEPHANIAH.

၁

၁ ယုဒရှင်ဘုရင်အာမုန်သားယောရှိမင်း ထက်
ထက်၊ ဟိဇကိ၊ အာမရိ၊ ဂေဒလိတို့မှဆင်းသက်
သောကုရှိ၏သားဇေဖနိသို့ရောက်လာသောထာ
၂ ဝရဘုရား၏နှုတ်ကပတ်တော်ဟူမူကား၊-ပြည်
တပြည်လုံး၌ ရှိလေသမျှတို့ကို အကုန်အစင်ငါ
သုတ်သင် ပယ်ရှင်း မည်ဟု၊ ထာဝရဘုရား မိန့်
၃ တော်မူ၏။-လူနှင့်တိရစ္ဆာန်တို့ကိုပယ်ရှင်းမည်။
မိုဃ်းကောင်းကင် ငှက်နှင့် ပင်လယ် ငါးတို့ကို
၎င်း၊အဓမ္မလူတို့နှင့်တကွပြစ်မှားစရာအကြောင်း
တို့ကို၎င် ငါ ပယ်ရှင်းမည်။ မြေ တပြင်လုံး၌ ရှိ
သော လူသတ္တဝါတို့ကိုလည်း ငါ ပယ်ရှင်း မည်
၄ ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။- ယုဒပြည်သူ၊
ယေရုရှလင်မြို့သားအပေါင်းတို့ကို ငါတိုက်၍၊
ဤအရပ်၌ ကျန်ကြွင်းသော ဗာလ ဘုရား၏ တ
ပည့် တို့ နှင့် ယဇ်ပုရောဟိတ် အမျိုး မျိုး တို့ ကို
၅ ၎င်း၊- ကောင်းကင် တန်ဆာများကိုအိမ်မိုးပေါ်
မှာကိုးကွယ်သောသူ၊ ထာဝရဘုရားနှင့်မာလ
ခံ ဘုရားကို တိုင်တည်လျက် ကျိန်ဆိုကိုးကွယ်
၆ သော သူတို့ကို ၎င်း၊- ထာဝရ ဘုရား ၏ နောက်
တော်သို့မလိုက်၊ လွှတ်သွားသောသူ၊ ထာဝရ
ဘုရားကိုမရှာဖွေ၊ မမေးမြန်းသော သူတို့ကို၎င်
ငါပယ်ရှင်းမည်။
၇ အရှင်ထာဝရဘုရား၏ရှေ့တော်၌ ငြိမ်ဝပ်စွာ
နေကြလော့၊ထာဝရဘုရား၏နေ့နီးပြီ။ ထာဝရ
ဘုရားသည်မိမိယဇ်ပွဲတော်ကိုပြင်ဆင်၍၊ပွဲဝင်
၈ သောသူတို့ကို သန့်ရှင်း စေတော်မူပြီ။- ထာဝရ
ဘုရားပွဲခံတော်မူသောနေ့၌မင်းများ၊ဆွေတော်
မျိုးတော်များနှင့် ထူးခြားစွာဝတ်သော သူများ
၉ အပေါင်းတို့ကိုငါစစ်ကြောမည်။-သူတပါး၏အိမ်
တံခါးခုံကိုကျော်၍ အနိုင်အထက်ပြုခြင်း၊ လှည့်
စားခြင်း အားဖြင့် ရသော ဥစ္စာနှင့် မိမိ သခင်
၏ အိမ် ကို ပြည့် စေ သော သူ အ ပေါင်း တို့ ကို
၁၀ လည်းထိုနေ့၌ငါစစ်ကြောမည်။-ထာဝရဘုရား
မိန့် တော်မူသည်ကား၊ ထိုနေ့၌ ငါး တံခါးဝမှာ
အော် တစ် သံ ကို ၎င်၊ ဒုတိယ မြို့၌ ငိုကြွေးမြည်
တမ်းသံကို၎င်၊ တောင်ရိုး၌ ပြင်းစွာ ရိုက်ချိုး ဖျက်သံ
၁၁ ကို၎င်ကြားရ၏။-မက္တေရှအရပ်သားတို့၊ငိုကြွေး
မြည်တမ်း ကြလော့။ ကုန် သည် အ ပေါင်း တို့
သင်ပြတ်ကြပြီ။ငွေကိုဆောင်သောသူအပေါင်း
၁၂ တို့သည်ဆုံးကြပြီ။-ထိုကာလ၌ငါသည်မီးခွက်
ကိုကိုင်၍ ယေရုရှလင်မြို့ကိုစစ်ကြောမည်။ ထာ

ဝရဘုရားသည်ကျေးဇူးကိုလည်းမပြု၊ အပြစ်
ကိုလည်း မပေးတုံ ဟုစိတ်နှလုံး၌ ဆိုလျက်၊ မိမိတို့အ
နည်အဖတ်ပေါ်၌နေရာကျသောသူတို့ကို ငါစစ်
၁၃ ကြောမည်။- ထိုသူတို့၏ဥစ္စာကို သူတပါးလုယူ
၍၊ သူတို့၏နေရာသည် လူဆိတ်ညံလျက် ရှိလိမ့်
မည်။ အိမ်ကို ဆောက် သော်လည်း မနေ ရကြ။
စပျစ်ဥယျာဉ်ကို စိုက်သော်လည်းစပျစ်ရည်ကိုမ
၁၄ သောက်ရကြ။-ထာဝရဘုရား၏နေ့ ကြီးနီးပြီ။နီး
ပြီ။အလျင်အမြန်လာ၏။ ထာဝရဘုရား၏နေ့၌သိ
တင်း သည်နားစွဲခါး၏။ ထိုနေ့၌သူရဲသည်အော်
၁၅ ဟစ်လိမ့်မည်။-ထိုနေ့သည်အမျက်ထွက်သော
နေ့၊ ဆင်းရဲပူပန်ခြင်းကိုခံရသောနေ့၊သုတ်သင်
ပယ်ရှင်းဖျက်ဆီးရာနေ့၊ အလင်းကွယ်၍ မှောင်
မိုက်သော နေ့၊ မိုဃ်းအုံ့၍ ထူထပ်သော မှောင်
၁၆ မိုက်ဖုံးလွှမ်းသောနေ့၊- မြို့ခိုင်သောမြို့၊ မြင့်သော
ရဲတိုက်တို့တဖက်၌ တံပိုးမှုတ်၍ကျေးကြော်ရာ
၁၇ နေ့ဖြစ်၏။-သူတို့သည်ထာဝရဘုရားကိုပြစ်မှား
သောကြောင့်၊ သူတို့ကို ငါညှဉ်းဆဲသဖြင့်မျက်
စိ မမြင်သော သူကဲ့သို့ သွားကြလိမ့်မည်။ သူတို့
အသွေး ကိုမြေ မှုန့် ကဲ့ သို့ သွန်း ၍ အသား ကို
၁၈ လည်း မစင်ကဲ့သို့ မှတ်ကြ လိမ့်မည်။- ထာဝရ
ဘုရား အမျက်ထွက်တော်မူသောနေ့၌ သူတို့ရွှေ
ငွေသည် သူတို့ကိုမကယ်တင် နိုင်ရာ။ ဒေါသအ
မျက်တော်မီးသည် တပြည်လုံးကို လောင်လိမ့်
မည်။ ပြည်သူပြည်သားအပေါင်းတို့ကို အလျင်
အမြန်စီရင်၍အကုန် အစင်သုတ်သင် ပယ် ရှင်း
တော်မူလိမ့်မည်။

၂

၁ အရှက်မရှိသော အမျိုးသားတို့၊ ကိုယ်ကိုစစ်
၂ ကြောကြ လော့။- အမိန့်တော်အတိုင်း မစီရင်၊
သင်တို့အချိန်သည်ဖွဲကဲ့သို့မလွန်၊ထာဝရဘုရား
၏ ပြင်းစွာသော အမျက် တော်သည် သင်တို့အ
ပေါ်သို့မရောက်၊ ထာဝရဘုရား၏အမျက်တော်
နေ့သည် သင်တို့အပေါ်သို့ မရောက်မှီ ကိုယ်ကို
၃ စစ်ကြောကြလော့။- တရား တော်အတိုင်း ကျင့်
၍ စိတ်နှိမ့်ချသော ပြည်သူ ပြည်သား အပေါင်း
တို့၊ထာဝရဘုရားကို ရှာကြလော့။ ဖြောင့် မတ်
ခြင်းနှင့် စိတ်နှိမ့်ချခြင်းကိုလည်း ရှာကြလော့။
ထာဝရဘုရား အမျက်ထွက်တော်မူသော နေ့၌
သင်တို့သည် ဝှန်းရှောင်ရာကို တွေ့ကောင်း တွေ့
ကြလိမ့်မည်။
၄ အကောယ်ခင်စစ် ဂါဇမြို့သည်စွန့်ပြစ်ရာ၊ အာ
ရှကေလုန်မြို့သည် သုတ် သင်ပယ် ရှင်း ရာ ဖြစ်
လိမ့်မည်။ အာဇုတ်မြို့သားတို့ကို မွန်းတည့် အ
ချိန်၌နှင်ထုတ်၍၊ ဧကြုန်မြို့ကိုလည်း မြို့ဖျက်ကြ
၅ လိမ့်မည်။- အိုပင်လယ် ကမ်းနားမှာ နေသော
ခေရသိအမျိုးသားတို့၊ သင်တို့တဖက်၌ထာဝရ
ဘုရား၏နှုတ်ကပတ်တော်ရှိ၏။အိုဖိလိတ္တိလူနေ
ရာခါနာန်ပြည်၊သင်၌အဘယ်သူမျှမနေစေခြင်း
၆ ငှါငါသုတ်သင်မည်။- ပင်လယ်ကမ်းနားအရပ်
သည်ကျက်စားရာ၊ သိုးထိန်းမှီခိုရာ၊သိုးခြံလုပ်
၇ စရာ ဘို့ ဖြစ် လိမ့် မည်။- ပင် လယ် ကမ်း သည်
လည်းကျန်ကြွင်းသော ယုဒအမျိုးသားတို့အဘို့
ဖြစ်၍၊သူတို့သည်ထိုအရပ်၌ ကျက်စားကြလိမ့်
မည်။ညအချိန်၌လည်းအာရှကေလုန်မြို့ရာအိမ်
တို့၌အိပ်ကြလိမ့်မည်။သူတို့၏ ဘုရားသခင်ထာ
ဝရဘုရားသည် သူတို့ကို အကြည့်အရှု ကြွလာ
၍၊ သိမ်း သွား ခြင်းဘေး ကို ပယ်ရှင်း တော်မူ
လိမ့်မည်။
၈ မောဘအမျိုးသားနှင့် အမ္မုန် အမျိုးသားတို့
သည်ငါ၏လူမျိုးကို ကဲ့ရဲ့အပြစ်တင်၍၊ ငါ၏လူ
နေရာတဖက်၌ဝါကြွားသောစကားကို ငါကြား
၉ ပြီ။-သို့ဖြစ်၍၊ဣသရေလအမျိုး၏ ဘုရားသခင်၊
ကောင်း ကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊မောဘပြည်နှင့်အမ္မုန်ပြည်
သည်၊ သောဒုံမြို့နှင့် ဂေါမောရမြို့ကဲ့သို့ ဆူးပင်
ပေါက်သော အရပ်၊ ဆားချက်ဘို့ မြေတူးရာအ
ရပ်၊ အစဉ်အမြဲ ပျက်စီးရာ အရပ်ဖြစ်၍၊ ကျန်
ကြွင်းသောငါ၏လူ၊ ငါ၏အမျိုးသားတို့သည်လု
၁၀ ယူသိမ်းစားကြလိမ့်မည်။- ထိုသူတို့သည် မာန
ကြီးသောသူဖြစ်၍၊ကဲ့ရဲ့လျက်၊ကောင်းကင်ဗိုလ်
ခြေအရှင် ထာဝရ ဘုရား၏ လူမျိုး တဖက်၌ ဝါ
ကြွားသောကြောင့် ထိုသို့သောအပြစ်ကို ခံရကြ
၁၁ လိမ့်မည်။- ထာဝရဘုရားသည် သူတို့တဖက်၌
ကြောက်မက် ဖွယ်ဖြစ်၍၊လောကီဘုရားရှိသမျှ
တို့ကိုအငယ်ထားတော်မူလိမ့်မည်။တပါးအမျိုး
သား နေရာ ကျွန်းရှိသမျှ တို့သည် အသီး အသီး
၁၂ မိမိတို့အရပ်၌ ရှိခိုးကြလိမ့်မည်။- အိုကုရှ ပြည်
သားတို့၊သင်တို့သည်လည်းငါ့ထား ဖြင့်အသေခံ
ရကြလိမ့်မည်။
၁၃ မြောက် မျက်နှာကို လည်း ထိုက်၍ အာရှုရိ
ပြည်ကို ဖျက်ဆီးတော်မူမည်။ နိနေဝေမြို့ကိုလူ
ဆိတ်ညံရာ အရပ်၊ လွင်ပြင်ကဲ့သို့ သွေ့ခြောက်
၁၄ သော အရပ်ဖြစ်စေတော်မူမည်။- မြို့အလယ်၌

သိုးစုများနှင့် တပါးအမျိုး သားရဲ အပေါင်းတို့
သည် အိပ်ကြလိမ့်မည်။ ဝံပိုနှင့် မြွေတို့သည် တံ
ခါးထုပ်၌ နေရာကျ၍ ပြတင်းပေါက်၌ မြည်ကြ
လိမ့်မည်။ တံခါး ခုံ တို့သည် လူ ဆိတ်ညံလျက်၊
အာရဇ်သစ်သား၌အပြောက်ပယ်ရှင်းလျက်ရှိ
၁၅ လိမ့်မည်။-ထိုမြို့ကား၊ငါရှိ၏။ ငါမှတပါးအဘယ်
သူမျှမရှိဟုဆိုလျက်၊ သောကနှင့် ကင်းလွတ်၍
ဝမ်းမြောက်လျက် နေဘူးသော မြို့ဖြစ် ပါသည်
တကား။ ယခုမှာသုတ်သင်ပယ်ရှင်းရာ၊သားရဲ
အိပ်ရာအရပ်ဖြစ်ပါသည်တကား။ရှောက်သွား
သောသူအပေါင်းတို့သည်ကဲ့ရဲ့သံကို ပြု၍လက်
ဖျားခါကြလိမ့်မည်။

၃

၁ ဆန့်ကျင်ဘက်ပြု၍ ညစ်ညူးလျက် ညှဉ်းဆဲ
၂ တတ်သောမြို့သည်အမင်္ဂလာရှိ၏။-နှုတ်ကပတ်
တော်အသံကိုနားမထောင်၊ ဆုံးမတော်မူခြင်းကို
မခံ၊ထာဝရဘုရားကိုမခိုလှုံ၊ မိမိဘုရားသခင်ထံ
၃ တော်သို့မချဉ်းကပ်။- မြို့အလယ်၌ မင်းများတို့
သည်ဟောက်သောခြင်္သေ့ဖြစ်ကြ၏။ တရားသူ
ကြီးတို့သည်နံနက်တိုင်အောင် အဘယ်အရာကို
မျှမချန်မထား၊ ညဉ့်၌ ဖျက်ဆီး တတ်သော
၄ တောခွေး ဖြစ်ကြ၏။- ပရောဖက်တို့သည် လျှပ်
ပေါ်သော သူ၊ သစ္စာ ဖောက် သော သူ ဖြစ် ကြ၏။
ယဇ်ပုရောဟိတ်တို့သည်သန့်ရှင်းရာဌာနတော်
ကို ညစ်ညူးစေ၍ တရားတော်ကိုလည်း ရှုတ်ချ
၅ ကြ၏။-သို့သော်လည်း၊ ထာဝရဘုရားသည် မြို့
အလယ်၌ တရား သဖြင့် ပြုတော်မူ၏။ မတရား
သောအမှုကိုပြုတော်မမူ။နံနက်အစဉ်အတိုင်း
မိမိဖြောင့်မတ်ခြင်းကို မချွတ်မယွင်း ဖော်ပြ
တော်မူ၏။ သို့သော်လည်း၊ အဓမ္မ လူတို့ သည်
၆ ရှက်ကြောက် ခြင်းမရှိကြ။- လူအမျိုးမျိုးတို့ကို
ငါပယ်ဖြတ်၍ သူတို့ ရဲတိုက် များကို ဖျက်ဆီး
ပြီ၊လမ်းတို့၌ အဘယ်သူမျှမသွားမလာစေ
ခြင်းငှါလူဆိတ်ညံစေပြီ။ မြို့တို့ကိုလည်း လူတစုံ
တယောက်မျှမနေစေခြင်းငှါ ဖျက်ဆီးလေပြီ။-
၇ ထိုအခါ ငါက၊ အကယ်စင်စစ် ဤမှ လောက်ငါ
ဆုံးမပြီးမှသင်သည်ကိုယ်နေရာကိုမပယ်ရှင်းစေ
ခြင်းငှါ၊ ငါ့ကိုကြောက်ရွံ့၍ နည်းခံ လိမ့်မည်ဟု
ဆို သော် လည်း၊ သူတို့ သည် ကြိုး စား၍ မှား
ယွင်းသောအကျင့်ကိုသာကျင့်ကြ၏။
၈ သို့သော် လည်း၊ ထာဝရ ဘုရား မိန့်တော် မူ
သည်ကား၊ဖမ်းဆီးလုယက်ခြင်းငှါငါမထမှီတိုင်

အောင်ငါ့ကိုငံ့ထင့်ကြတော့။တိုင်းနိုင်ငံပြည်သား
အမျိုးမျိုးတို့ကို စုဝေးစေ၍၊ ငါ့အမျက်၊ ငါ့ဒေါသ
အရှိန်ကို အကုန်အစင်သွန်းလောင်းမည်ဟု ငါ
အကြံရှိ၏။ ငါ့ဒေါသ မီးသည် မြေတပြင်လုံး ကို
၉ လောင် ရလိမ့်မည်။- အကယ်စင်စစ် လူမျိုး အ
ပေါင်းတို့သည်ထာဝရဘုရား၏အမှုတော်ကိုတ
ညီတညွတ်တည်း ဆောင်ရွက်မည်အကြောင်း၊
နာမတော်ကို ပဌနာပြုစေခြင်းငှါ သန့်ရှင်းသော
ဘာသာစကားကို သူတို့အား ငါ ပြန်ပေးမည်။-
၁၀ ကုရှပြည်၏ မြစ်တို့တဖက်၊ အရပ်ရပ်၌ ကွဲပြား
လျက်နေသောငါ၏လူမျိုးသတို့သမီး၊ငါ့ကိုတောင်း
ပန် သော သူတို့ သည် ငါ့အဖို့ ပူဇော် သက္ကာ ကို
၁၁ ဆောင်ခဲ့ကြလိမ့်မည်။- ငါ့ကို ပြစ်မှား သော အ
ပြစ် များကြောင့် ထိုအခါ သင်သည် အရှက်ကွဲ
ခြင်းကိုမခံရ။ သင်၏ဂုဏ်အသရေကြောင့် ဝါ
ကြွားသောသူတို့ကို သင့်အထဲ၌ ငါပယ်ရှား
မည်။သင်သည်လည်း၊ငါ၏သန့်ရှင်းသောတောင်
ကိုအမှီပြု၍နောက်တဖန်မာနမထောင်ရ။ရ။-
နှိမ့်ချဆင်းရဲသော အမျိုးကို သင့်အထဲ၌ ငါ
ချန်ထားမည်။ထိုသူတို့သည် ထာဝရဘုရား၏နာ
မတော်ကို ခိုလှုံကြလိမ့်မည်။- ကျန်ကြွင်းသော
ဣသရေလ အမျိုးသားတို့သည် မတရား သော
အမှုကိုမပြုရကြ။ မုသာမပြောရကြ။ သူတို့နှုတ်
၌လှည့်စား တတ်သောလျှာမရှိရ။ အဘယ်သူမျှ
မကြောက်စေဘဲစားသောက်လျက်၊ အိပ်လျက်
နေရကြလိမ့်မည်။
၁၄ ဇိအုန်အုန်သတို့သမီး၊သီခြင်းဆိုလော့၊အို ဣသ
ရေလအမျိုး၊ကြွေးကြော်လော့။ အိုယေရုရှလင်
သတို့သမီး၊ စိတ်နှစ်လုံးအကြွင်းမဲ့ ဝမ်း မြောက်
၁၅ ရွှင်လန်းလော့။-ထာဝရဘုရားသည် သင်၏အ
ပြစ်ဒဏ်တို့ကို ပပျောက်စေ၍၊ သင်၏ ရန်သူတို့
ကိုပယ်ရှားတော်မူပြီ။ ဣသရေလအမျိုး၏ ရှင်
ဘုရင် ထာဝရ ဘုရား သည် သင့် အ ထယ်၌ ရှိ
တော်မူ၏။ သင်သည်နောက်တဖန် ဘေးဥပါဒ်
၁၆ နှင့်မတွေ့မကြုံရ။- မစိုးရိမ်နှင့်ဟု၊ ယေရု ရှလင်
မြို့အားငှင်၊ လက်အားမလျော့စေနှင့်ဟု၊ ဇိအုန်
တောင်အားငှင်၊ထိုအခါဆိုရ၏။- သင်၏ဘုရား
သခင်ထာဝရ ဘုရားသည် သင့်အထယ်၌ ရှိ၍၊
တန်ခိုးကြီးသောဘုရားသည်သင့်ကိုကယ်တင်
တော်မူလိမ့်မည်။ သင်၌အားရ၍ ဝမ်းမြောက်
တော်မူလိမ့်မည်။ ချစ်ခြင်းမေတ္တာ၌ကျိန်းဝပ်၍၊
သီခြင်းဆိုခြင်းနှင့်တကွသင်၌ဝမ်းမြောက်ကော်

၁၈ စုထိမ့်မည်။- ကဲ့ရဲ့ခြင်း၊ ဝန်ကို သင်ထမ်း၊ ရာ အ
ကြောင်း၊ တည်းဟူသော၊ သင်နှင့် ဝေး၍ ဓမ္မပွဲ
ကိုမခံရဘဲ ညှိုးငယ်လျက်ရှိသော သူတို့ကို ငါစု
၁၉ ဝေးစေမည်။-သင့်ကိုညှဉ်းဆဲသောသူအပေါင်း
တို့ကို ထိုအခါ ငါစီရင်မည်၊ နာသောသူကိုချမ်း
သာပေးမည်၊ နှင်ထုတ်ခြင်းကို ခံရသောသူကို
သိမ်း၍စေမည်၊ အရှက်ကွဲခြင်းကို ခံရရာ ပြည်
အရပ်ရပ်တို့၌ ချီးမွမ်းခြင်း၊ ဂုဏ်အသရေကိုပေး
၂၀ မည်။- ထိုကာလ၌ သင်တို့ကိုတဖန်ငါဆောင်ခဲ့
၍ စုဝေးစေသဖြင့်၊ ထိမ်းသွားခြင်းကိုခံရသော
သူတို့ကို သင်တို့ ရှက်မှောက်၌ တဖန် ဆောင်ခဲ့
ပြန်သောအခါ၊ မြေကြီး၊သား အမျိုးမျိုးတို့တွင်
ချီးမွမ်းခြင်း၊ ဂုဏ်အသရေကို သင်တို့အား ပေး
မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။

ဇေဖာနိစီရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

---

# ဟဂ္ဂဲအနာဂတ္တိကျမ်း။
## HAGGAI

၁

၁ ဒါရိမင်းကြီး၊နန်း၊စံ နှစ်နှစ်၊ ဆဋ္ဌမလတရက်နေ့
တွင်၊ ပရောဖက်ဟဂ္ဂဲအား၊ဖြင့်ယုဒမြို့ဝန်၊ ရှာလ
သေလသား၊ ဇေရုဗဗေလနှင့် ယဇ်ပုရောဟိတ်
မင်း၊ ယောဇဒက်သား၊ ယောရှုဆီသို့ ထာဝရ
ဘုရား၏ နှုတ်ကပတ်တော် ရောက်လာ၍၊-
၂ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ အချိန် မရောက်သေး၊ ထာ
ဝရဘုရား၏အိမ်တော်ကို တည်ဆောက်ရသော
အချိန် မရောက်သေးဟု၊ ဤလူများ၊ ပြောဆိုကြ
၃ သည် မှာ၊- ပရောဖက် ဟဂ္ဂဲ အား၊ဖြင့် ထာဝရ
ဘုရား၏ နှုတ် ကပတ် တော် ရောက် လာ သည်
၄ ကား၊-အချင်း၊လူတို့၊သင်တို့သည်အမိုး၊နှစ်ထပ်
နှင့်ပြည့်စုံသောအိမ်၌ နေချိန်ရှိလျက်ပင်၊ အိမ်
၅ တော် ပျက် လျက် နေ ရ မည် လော၊- ယခုမှာ
ကောင်း၊ကင် ဗိုလ်ခြေ အရှင်ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ ကိုယ်ကျင့်သော အကျင့်တို့
၆ ကို ဆင်ခြင် ကြလော့၊- သင်တို့ သည် များ၊ စွာ
သောမျိုးစေ့ကိုကြဲသော်လည်း၊အသီး၊အနှံ နည်း
ပါး၊ရ၏၊ စား၊ရသော် လည်း ဝစွာ မစား ရကြ၊
သောက်ရသော်လည်း၊ဝစွာမသောက်ရကြ၊ အ
ဝတ်ကို ဝတ်ရသော်လည်း၊ နွေး၊စွာ မဝတ်ရကြ၊
အလုပ် လုပ် ၍ အခ ကို ခံ ရ သော်လည်း၊ မယုံ
သောအိတ်ထဲမှာသိုထား၊ရကြ၏။
၇ ကောင်း၊ကင်ဗိုလ်ခြေအရှင်ထာဝရဘုရား၊မိန့်
တော်မူသည်ကား၊ ကိုယ်အကျင့်တို့ကို ဆင်ခြင်
၈ ကြလော့။-တောင်ပေါ်သို့တက်သွား၍သစ်သား
ကို ဆောင်ခဲ့ပြီး၊လျှင် အိမ်တော်ကို ဆောက်ကြ
လော့၊ငါသည်လည်း၊အား၊ရ၍ ငါ၏ဘုန်း၊အသရေ
ထင်ရှား၊လိမ့်မည်ဟု၊ ထာဝရဘုရား၊မိန့်တော်မူ
၉ ၏၊- သင်တို့ သည် များ၊စွာ ရမည်ဟု မျှော်လင့်
သော်လည်း၊ရသောဥစ္စာနည်း၊ပါး၊ရ၏၊ အိမ်သို့
ရောက် သော အခါ ငါ မှုတ် ထုတ် ၏၊ အဘယ်
ကြောင့်နည်း၊ဟု၊ ကောင်း၊ကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရား၊မေး၊တော်မူ၏၊ငါ့အိမ်သည်ပျက်လျက်
ရှိသော့ကြောင့်၎င်း၊သင်တို့သည်အသီး၊အသီးမိမိ
တို့အိမ်သို့ ပြေး၊သော့ကြောင့်၎င်း ဖြစ်သတည်း။-
၁၀ ထိုကြောင့်၊သင်တို့အပေါ်မှာမိုဃ်း၊ခေါင်သဖြင့်
နှင်း၊မကျရ၊မြေသည်လည်း၊အသီး၊အနှံကိုမပေး
၁၁ ရ၊-မြေပေါ်၌၎င်း၊တောင်ပေါ်၌၎င်း၊ ဆန်စပါး၊
ချိုသော စပျစ်ရည်၊ ဆီအပေါ်၌၎င်း၊ မြေထဲက
ထွက်သမျှ အပေါ်၌၎င်း၊ လူသတ္တဝါ တိရိစ္ဆာန်
အပေါ်၌၎င်း၊ လုပ်ဆောင်သမျှအပေါ်၌၎င်း၊ ချောက်
ခြောက်ခြင်း၊ဘေး၊ကို ငါမှာထုတ်လေပြီဟု မိန့်
တော်မူ၏။
၁၂ ထိုအခါ ရှာလသေလသား၊ ဇေရုဗဗေလ နှင့်
ယဇ်ပုရောဟိတ်မင်း၊ ယောဇဒက်သား၊ယောရှု
မှစ၍ ကျန်ကြွင်း၊သောသူအပေါင်း၊တို့သည် မိမိ
တို့ဘုရား၊သခင် ထာဝရဘုရား၏ အမိန့်တော်ကို
၎င်း၊ မိမိတို့ ဘုရား၊သခင် ထာဝရ ဘုရား စေခိုင်း၊

တော်ရှိသော ပရောဖက် ဟဂ္ဂဲ စကားကို ရှင်
နားထောင်သဖြင့်၊ ထာဝရဘုရား ရှေ့တော်၌
၁၃ ကြောက်ရွံ့ကြ၏။- ထိုအခါ ထာဝရဘုရား မှာ
ထားတော်မူသည်အတိုင်း ထာဝရဘုရား၏ တ
မန်ဟဂ္ဂဲက၊ငါသည်သင်တို့နှင့်အတူရှိ၏ဟု၊ထာ
ဝရဘုရားမိန့်တော်မူကြောင်းကိုလူများတို့အား
၁၄ ဆင့်ဆိုလေ၏။-ထာဝရဘုရားသည်ယုဒ
မြို့ဝန်၊ရှာလသေလ သားဇေရုဗ္ဗဗေလ နှင့်ယောရှ
ပရောဟိတ် မင်းယောဇဒက်သား ယောရှုမှစ၍
ကျန်ကြွင်း သော သူ အပေါင်း တို့ ကို နှိုး ဆော်
၁၅ တော်မူသော အားဖြင့်၊- ဒါရိမင်းကြီး နန်းစံ နှစ်
နှစ်၊ဆဋ္ဌမလ နှစ်ဆယ်လေးရက်နေ့တွင်၊ သူတို့
သည် လာ၍ မိမိတို့ ဘုရားသခင်၊ ကောင်းကင်
ဗိုလ်ခြေ အရှင်ထာဝရ ဘုရား၏ အိမ်တော်၌အ
လုပ်လုပ်ကြ၏။

၂

၁ သတ္တမလနှစ်ဆယ်တရက်နေ့တွင်၊ပရောဖက်
ဟဂ္ဂဲအားဖြင့်ထာဝရဘုရား၏နှုတ်ကပတ်တော်
၂ ရောက်လာ၍၊- သင်သည်ယုဒမြို့ဝန်၊ရှာလသေ
လ သား ဇေရုဗ္ဗဗေလ နှင့်ယောရှပရောဟိတ်မင်း
ယောဇဒက်သားယောရှုမှစ၍ ကျန်ကြွင်းသော
၃ သူတို့အားဆင့်ဆိုရမည်မှာ၊-ဤအိမ်တော်သည်
ရှေးဘုန်းနှင့် ပြည့်စုံသည်ကို မြင်ဘူး၍ သင်တို့
တွင် ကျန်ကြွင်းသောသူကား အဘယ် သူနည်း။
ယခု အဘယ် အရာကို မြင် သနည်း။ နှိုင်း ရှည်
လျှင်သင်တို့မျက်မှောက်၌ အဘယ်မျှမဟုတ်သ
၄ ကဲ့သို့ဖြစ်သည်မဟုတ်လော။- သို့သော်လည်း၊
အိုဇေရုဗ္ဗဗေလ၊အားယူလော့ဟု၊ထာဝရဘုရား
မိန့်တော်မူ၏။ အိုယောရှပရောဟိတ်မင်း ယောဇ
ဒက်သားယောရှု၊အားယူလော့။အိုပြည်သူပြည်
သားအပေါင်းတို့၊အားယူကြလော့ဟု၊ ထာဝရ
၅ ဘုရားမိန့်တော်မူ၏။-အဲဂုတ္တုပြည်မှထွက်သော
အခါသင်တို့နှင့် ငါဖွဲ့သောပဋိညာဉ်စကားနှင့်
အညီငါသည်သင်တို့နှင့်အတူရှိ၏။ ငါ၏ဝိညာဉ်
တော်သည် သင်တို့တွင်နေရာကျ၏။ မစိုးရိမ်ကြ
နှင့် ဟု၊ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ
၆ ဘုရား မိန့်တော်မူ၏။- ကောင်းကင် ဗိုလ်ခြေ အ
ရှင်ထာဝရဘုရားမိန့်တော်မူသည်ကား၊ ကာလ
မကြာမမြင့်မှီ ကောင်းကင်၊ မြေကြီး၊ ပင်လယ်၊
၇ ကုန်းတို့ကို တဖန် ငါ လှုပ် ဦးမည်။- လူမျိုး အ
ပေါင်း တို့ ကို လည်း ငါ လှုပ် ဦးမည်။ လူမျိုးအ
ပေါင်းတို့နှစ်သက်ဖွယ်သောအရာသည်ရောက်
၍၊ ဤ အိမ်ကို ဘုန်းနှင့် ငါပြည့်စုံ စေမည်ဟု၊
ကောင်းကင်ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်
၈ တော်မူ၏။-ရွှေနှင့်ငွေကိုငါပိုင်သည်ဟု၊ကောင်း
ကင် ဗိုလ်ခြေ အရှင် ထာ ဝရ ဘုရား မိန့် တော်မူ
၉ ၏။- နောက် တည် သော ဤ အိမ်တော်သည် အ
ရင် အိမ်တော်ထက် ဘုန်းသာ၍ ကြီးလိမ့် မည်
ဟု၊ ကောင်း ကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား
မိန့်တော်မူ၏။ ဤအရပ်၌လည်း ငြိမ်သက်ခြင်း
ကို ငါ ပေးမည်ဟု၊ ကောင်းကင် ဗိုလ်ခြေ အရှင်
ထာဝရဘုရားမိန့်တော်မူ၏။
၁၀ ဒါရိမင်းကြီးနန်းစံနှစ်နှစ်၊ နဝမလ နှစ်ဆယ်
လေးရက်နေ့တွင်၊ထာဝရဘုရား၏ နှုတ်ကပတ်
တော်သည်ပရောဖက်ဟဂ္ဂဲအားဖြင့် ရောက်လာ
၁၁ လျက်၊-ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား
က၊သင်သည် တရားအမှုကို ယဇ်ပရောဟိတ်၌
၁၂ မေးမြန်းရမည်မှာ၊-လူသည်သန့်ရှင်းသောအမဲ
သားကို မိမိအဝတ်နှင့် ထုတ်၍ ဆောင်ခဲ့လျက်၊
မုန့်၊ဟင်း၊စပျစ်ရည်၊ ဆီအစရှိသောစားစရာတ
- စုံတခုကိုထိုအဝတ်နှင့်ထိလျှင်၊ထိုစားစရာသည်
သန့်ရှင်းလိမ့်မည်လောဟုမေးမြန်းသော်၊ယဇ်
ပရောဟိတ် တို့က၊ ထိုစားစရာသည် မသန့်ရှင်း
၁၃ ဟုပြန်ပြောကြ၏။-ဟဂ္ဂဲကလည်း၊အသေကောင်
အားဖြင့်မစင်ကြယ်သောသူသည် ထိုအရာတစုံ
တခုကိုထိလျှင်ညစ်ညူးခြင်းရှိလိမ့်မည်လောဟု
မေးမြန်းသော်၊ ယဇ်ပရောဟိတ်တို့က၊ညစ်ညူး
၁၄ ခြင်း ရှိလိမ့် မည် ဟု ပြန် ပြော ကြ၏။- ဟဂ္ဂဲ က
လည်း၊ ဤလူမျိုး၊ ဤပြည်သားတို့သည် ငါ့မျက်
မှောက်၌ ထိုအတူဖြစ်ကြ၏။ သူတို့လုပ်ဆောင်
သမျှသည်လည်းထိုအတူဖြစ်၏။ ငထံမှာပူဇော်
သောအရာသည်လည်း ညစ်ညူး၏ဟု၊ ထာဝရ
၁၅ ဘုရားမိန့်တော်မူ၏။- ထာဝရဘုရား၏ ဗိမာန်
တော်၌ ကျောက် တခုပေါ်မှာ တခု ကို မတင်မှီ၊
ယခုနေ့မှစ၍အထက်အမှုကိုပြန်ကြည့်ဆင်ခြင်
၁၆ ကြပါလော့။- ထိုကာလတွင် ဆန် အတင်း နှစ်
ဆယ်ထွက်ရသော စပါးပုံသို့ လူလာသောအခါ
တဆယ်ကိုသာရ၏။ စပျစ်ရည်အိုး ငါးဆယ်ကို
ယူခြင်းငှါစပျစ်သီးနယ်ရာကျင်းသို့လာသောအ
၁၇ ခါနှစ်ဆယ်ကိုသာရ၏။- သင်တို့ လုပ်ဆောင်သ
မျှတို့တွင်လေထိ၍ အပင်သေသော၊ အရည်ယို၍
သေသောအားဖြင့် ငါသည် ဒဏ်ခတ်ခဲ့ပြီ။ သို့သော်
လည်း၊သင်တို့သည်ငထံသို့ပြန်၍မလာကြဟု၊
၁၈ ထာဝရဘုရားမိန့်တော်မူ၏။- ထာဝရ ဘုရား၏

မိတ်ဖွန်တော်တိုက်မြစ်ကျ၍၊ နဝမလနှစ်ဆယ်
လေးရက်နေ့၊ ထိုနေ့မှစ၍ ရှေ့သို့မျှော်ကြည့်
ဆင်ခြင်ကြပါလော့၊ ဆင်ခြင်ရမည်အကြောင်း
၁၉ အရာဟူမူကား၊- စပါးကျီ၌စပါးရှိသလော၊ မ
ရှိ၊ စပျစ်ပင်၊ သင်္ဘောသခွန်းပင်၊ သလဲပင်၊ သံ
လွင်ပင်တို့သည် အသီးကို မသီးကြသေး၊ ထို
သော်လည်း၊ ယနေ့မှစ၍သင်တို့ကို ငါကောင်း
ကြီးပေးမည်ဟုမိန့်တော်မူ၏။
၂၀ ထိုလ နှစ်ဆယ်လေးရက်နေ့တွင်၊ ထာဝရ
ဘုရား၏ နှုတ်ကပတ်တော်သည် တဖန်သို့တဖန်
၂၁ ရောက်လာ၍၊- သင်သည် ယုဒမြို့ဝန်၊ ဇေရုဗ
ဗေလကို ဆင့်ဆိုရမည်မှာ၊ ငါသည် ကောင်း
၂၂ ကင်နှင့် မြေကြီးကို လှုပ်မည်၊- တိုင်းနိုင်ငံတို့၏
ရာဇပလ္လင်များကို မှောက်လှန်၍၊ အမျိုးမျိုး
သောတိုင်းနိုင်ငံတန်ခိုးကိုဖျက်ဆီးမည်၊ ရထား
နှင့်ရထားစီးသူရဲတို့ကိုလည်းမှောက်လှန်မည်၊
မြင်းနှင့်မြင်းစီးသူရဲတို့သည် တယောက်ကိုတ
၂၃ ယောက်ခုတ်၍ လဲကြလိမ့်မည်၊- ကောင်းကင်
ဗိုလ်ခြေ အရှင်ထာဝရ ဘုရား မိန့်တော်မူသည်
ကား၊ ငါ့ကျွန် ရှာလသေလ သား၊ ဇေရုဗဗေ
လ၊ ထိုအခါ သင့်ကိုငါယူ၍ တံဆိပ်လက်စွပ်ကဲ့
သို့ ခန့်ထားမည်ဟု၊ ထာဝရဘုရား မိန့်တော်မူ
၏၊သင့်ကိုငါရွေးချယ်ပြီဟု၊ကောင်းကင်ဗိုလ်ခြေ
အရှင်ထာဝရဘုရားမိန့်တော်မူ၏။

ပရောဖက်ဟဂ္ဂဲစီရင်ရေးထားသောအနာဂတ္တိကျမ်းပြီး၏။

# ဇာခရိအနာဂတ္တိကျမ်း။

## ZECHARIAH.

၁

၁ ဒါရိမင်းကြီးနန်းစံနှစ်နှစ်၊ အဋ္ဌမလတွင်၊ ဣဒ္ဒေါ
သား ဗာရခိ၏သား၊ ပရောဖက် ဇာခရိ သို့
ရောက်လာသော ထာဝရ ဘုရား၏ နှုတ်ကပတ်
၂ တော်ဟူမူကား၊- ထာဝရ ဘုရားသည် သင်တို့
ဘိုးဘေးများကိုအလွန်အမျက်ထွက်တော်မူပြီး-
၃ သို့သော်လည်း၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရား၏ အမိန့်တော်ကိုသူတို့အားဆင့်ဆိုရ
မည်မှာ၊ငါ့ထံသို့ပြန်၍လာကြလော့ဟု၊ ကောင်း
ကင်ဗိုလ်ခြေ အရှင်ထာဝရဘုရား မိန့်တော်မူ၏၊
ငါသည်လည်း သင်တို့ ရှိရာသို့ ပြန်လာမည်ဟု၊
ကောင်းကင် ဗိုလ်ခြေ အရှင်ထာဝရ ဘုရား မိန့်
၄ တော် မူ၏၊- ဝှေး ပ ရော ဖက် တို့ က၊ သင် တို့ မ
ကောင်းသောလမ်း၊မကောင်းသောအကျင့်များ
ကို ယခုကြည်ရှောင်ကြလော့ဟု၊ ကောင်း ကင်
ဗိုလ်ခြေ အရှင် ထာဝရ ဘုရား၊ မိန့်တော် မူသည်
ကို ဆင့်ဆိုလျက် ကြွေးကြော်သော်လည်း နားမ
ကြား၊ ငါ့စကားကိုလည်းနားမထောင်သောသ
ဖြင့် ဘိုးဘေး များကဲ့သို့ မပြုကြနှင့်ဟု၊ ထာဝရ
၅ ဘုရားမိန့်တော်မူ၏၊- ဘိုးဘေးတို့သည်အဘယ်
မှာ ရှိကြသနည်း၊ ပရောဖက် တို့သည် အစဉ်
၆ အမြဲအသက်ရှင်တတ်ကြသလော၊- ငါ၏ ကျွန်
ပရောဖက် တို့၌ ငါမှာထားသော ငါ၏ ပညတ်
စကားတို့သည် သင်တို့ဘိုးဘေးများကို မှီကြပြီ
မဟုတ်လော၊ သူတို့သည် သတိရ၍ ငါတို့ကျင့်
ကြံပြုမူသည်နှင့် အလျောက်၊ ကောင်းကင်ဗိုလ်
ခြေအရှင် ဘုရားသခင် ထာဝရဘုရားသည် ငါ
တို့၌ စီရင်မည်ဟု အကြံရှိတော်မူသည် အတိုင်း၊
စီရင် တော် မူ ပြီ ဟု ပြော ဆို ကြ သည် မဟုတ်
လောဟုမိန့်တော်မူ၏။
၇ ဒါရိ မင်း ကြီး နန်း စံ နှစ် နှစ်၊ ဧကာဒသမ လ
တည်းဟူသော ရှေဗတ် လ နှစ်ဆယ် လေးရက်
နေ့တွင်၊ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
ဣဒ္ဒေါ သားဖြစ်သော ဗာရခိ၏ သား ပရောဖက်
၈ ဇာခရိသို့ရောက်လာ၍၊-ညည့်အခါမြင်ရသော
ရူပါရုံဟူမူကား၊မြင်းနီကိုစီးသောလူတဦးသည်
ထင်ရှား၍ ချိုင့်တွင်ရှိသောမုရတုတော၌ရပ်၏၊
သူနောက်မှာနီသောမြင်း၊ပြောက်သောမြင်း၊ ဖြူသော
၉ မြင်းတို့သည်ရှိကြ၏၊-ငါကလည်း၊ကိုယ်သခင်၊ထို
သူတို့ကားအဘယ်သူနည်းဟုမေးသော်၊ ငါနှင့်
ပြောဆိုသော ကောင်းကင်တမန်က၊ ထိုသူတို့
ကား အဘယ်သူ ဖြစ်သည်ကို ငါပြမည်ဟု ဆို

၁၀ ပြီးမှ၊- ရှရတုတောဘ္ဘ ရပ်သော လူက၊ ထို သူတို့
သည်မြေကြီးအရပ်ရပ်တို့ကိုလှည့်လည်၍သွား
စေခြင်းငှါ၊ ထာဝရဘုရားစေလွှတ်တော်မူသော
၁၁ သူဖြစ်ကြ သည်ဟု ပြန် ပြော ၏။- ထို သူ တို့ က
လည်း၊ အကျွန်ုပ် တို့သည် မြေကြီးအရပ်ရပ်တို့
ကို လှည့်လည်၍ သွားပါပြီ။ မြေကြီး တရှောက်
လုံးသည်အမှုမရှိ၊ ငြိမ်ဝပ်လျက်ရှိပါ၏ဟု၊ ရှရ
တုတောဘ္ဘရပ်သောထာဝရဘုရား၏ကောင်းကင်
တမန်အားပြန်လျှောက်ကြ၏။
၁၂ တဖန်ထာဝရဘုရား၏ကောင်းကင်တမန်က၊
အို ကောင်းကင် ဗိုလ်ခြေ အရှင်ထာဝရ ဘုရား၊
ကိုယ်တော်သည် အနှစ်ခုနှစ်ဆယ် ပတ်လုံး အ
မျက်ထွက်တော်မူသောယေရုရှလင်မြို့နှင့်ယုဒ
မြို့ ရွားကို အဘယ်မျှ ကာလ ပတ် လုံး မသနား
ဘဲ နေတော်မူမည်နည်းဟုမေးလျှောက်သော်၊-
၁၃ ထာဝရဘုရားသည်ငါနှင့်ပြောဆိုသောကောင်း
ကင်တမန်အားကောင်းသောစကား၊နှစ်သိမ့်စေ
၁၄ သောစကားဖြင့်ပြန်ပြောတော်မူ၏။-ငါနှင့်ပြော
ဆိုသော ကောင်းကင်တမန် ကလည်း၊ ကောင်း
ကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏အမိန့်တော်
ကိုဆင့်ဆို၍ကြွေးကြော်ရမည်မှာ၊ငါသည်ယေ
ရုရှလင်မြို့နှင့် ဇိအုန်တောင်အဖို့ အလွန်ကြင်နာ
သောစိတ်အားကြီး၏။- ငြိမ်ဝပ်စွာနေသောတ
ပါးအမျိုးသား တို့ကို အလွန် အမျက် ထွက်၏။
အကြောင်းမူကား၊ ငါသည် ယေရုရှလင် မြို့ကို
အနည်းငယ်အမျက်ထွက်သောအခါသူတို့သည်
၁၆ မိုင်း၍ ညှဉ်းဆဲ ကြပြီ။- ထိုကြောင့်၊ ထာဝရ
ဘုရား မိန့်တော် မူ သည်ကား၊ ကျေးဇူး ပြုချင်
သောစိတ်နှင့် ယေရုရှလင်မြို့သို့ ငါ ပြန်လာပြီ၊
ဤမြို့တွင် ငါ့အိမ်ကိုတည်ဆောက်ရမည်။ မြို့ရ
ကိုလည်း၊တိုင်းထွာရမည်ဟု၊ကောင်းကင်ဗိုလ်
၁၇ ခြေအရှင် ထာဝရဘုရား မိန့်တော်မူ၏။- တဖန်
ကောင်းကင် ဗိုလ်ခြေအရှင် ထာဝရဘုရား၏အ
မိန့်တော်ကိုဆင့်ဆို၍ ကြွေးကြော်ရမည်မှာ၊ ငါ
၏ မြို့ရွာတို့သည် အရပ်ရပ်၌ နှံ့ပြား၍ စည်ပင်
ကြလိမ့်မည်။ ထာဝရဘုရားသည် ဇိအုန်တောင်
သားတို့ကို နှစ်သိမ့် စေဦးမည်။ ယေရုရှလင်မြို့
သား တို့ကို ရွေးကောက် ၍ ပြုစုဦးမည်ဟု မိန့်
တော်မူ၏။
၁၈ တဖန်ငါမျှော်ကြည့်၍ဦးချိုလေးချောင်းကိုမြင်
၁၉ ၏။-ငါနှင့်ပြောဆိုသောကောင်းကင်တမန်အား
လည်း၊ထိုဦးချိုတို့ကားအဘယ်သို့နည်းဟုမေး
မြန်းသော်၊ ထိုဦးချိုတို့သည်ယုဒပြည်၊ ဣသရေ
လပြည်၊ ယေရုရှလင် မြို့တို့ကို အရပ်ရပ်သို့ကွဲ
၂၀ ပြားစေသောဦးချိုဖြစ်သည်ဟုပြန်ပြော၏။-ထာ
ဝရဘုရားသည်လည်း လက်သမားလေးဦးတို့
၂၁ ကိုပြတော်မူ၏။- ငါကလည်း၊ ဤသူတို့သည် အ
ဘယ်အမှုကို ပြု ခြင်းငှါ လာပါသနည်းဟု မေး
လျှောက်သော်၊ ကောင်းကင်တမန်က၊ ထိုဦးချို
တို့သည် အဘယ်သူမျှမျှော်၍ မကြည့်ဝံ့အောင်၊
ယုဒ ပြည်သားတို့ကို ကွဲပြားစေသော ဦးချို ဖြစ်
ကြ၏။ဤလက်သမားတို့သည်ယုဒပြည်သားတို့
ကိုကွဲပြားစေခြင်းငှါတိုက်လာသော ထိုဦးချိုတို့
ကိုခြိမ်းမောင်း၍၊တပါးအမျိုး၏ဦးချိုတို့ကိုရှုတ်
ချသောသူဖြစ်ကြသည်ဟုပြန်ပြော၏။

၂

၁ တဖန်ငါမျှော်ကြည့်၍၊ တိုင်းစရာကြိုးကိုကိုင်
၂ သော လူတဦး ကို မြင်လျှင်၊- အဘယ်အရပ်သို့
သွားမည်နည်းဟုထိုသူအားမေးသော်၊ ယေရုရှ
လင်မြို့အလျားအနံကိုသိလို၍ မြို့ကိုတိုင်းခြင်းငှါ
၃ သွားသည်ဟုပြန်ပြော၏။- ငါနှင့်ပြောဆိုသော
ကောင်းကင်တမန် သည် ထွက်သွားသော်၊ အ
ခြားသောကောင်းကင်တမန်သည်ကြိုဆိုလျက်၊-
၄ သင်သည်ပြေး၍ထိုလုလင်ကိုဆင့်ဆိုရမည်မှာ၊
ယေရုရှလင် မြို့သား လူ သတ္တဝါ တိရစ္ဆာန် တို့
သည်အလွန်များသောကြောင့် ရွာတို့၌ နေရကြ
၅ လိမ့်မည်။- ထာဝရဘုရားမိန့်တော်မူသည်ကား၊
ငါသည် မြို့ကိုကာသောမီးမြို့ရိုးဖြစ်မည်။ မြို့အ
လယ်၌လည်း ငါသည် မြို့၏ဘုန်းအသရေဖြစ်
၆ မည်။- အချင်းတို့၊ အချင်းတို့၊ မြောက်မျက်နှာ
အရပ်မှပြေးလာကြလော့ဟု၊ထာဝရဘုရားမိန့်
တော်မူ၏။မိုဃ်းကောင်းကင်အောက်လေးမျက်
နှာတို့၌ သင်တို့ကို ငါ နှံ့ပြား စေပြီဟု၊ ထာဝရ
၇ ဘုရားမိန့်တော်မူ၏။- ဗာဗုလုန်မြို့သမီးထံမှာ နေ
သော အချင်း ဇိအုန် သ တို့ သမီး၊ အလွတ် ပြေး
၈ လော့။- ကောင်း ကင် ဗိုလ် ခြေ အရှင် ထာ ဝ ရ
ဘုရားမိန့်တော်မူသည်ကား၊သင်တို့ကိုဖျက်ဆီး
သော လူမျိုးတို့ရှိရာသို့ ဘုန်းထင်ရှား ပြီးမှ ငါကို
စေလွှတ်တော်မူ၏။ သင်တို့ကို ထိသောသူသည်
၉ မျက်ဆန်တော်ကို ထိသောသူဖြစ်၏။- သူတို့ကို
ငါတိုက်၍သူတို့၏ကျွန်များသည်လုယူဖျက်ဆီး
ကြလိမ့်မည်။ ကောင်းကင် ဗိုလ်ခြေအရှင် ထာ
ဝရဘုရားသည်ငါ ကို စေလွှတ်တော်မူသည် ကို
သင်တို့သိရကြလိမ့်မည်။

၁၀ ဇိအုန် သတို့သမီး၊ သီချင်းဆို၍ ရွှင်လန်း
လော့၊ ငါလာ၍သင့်အထဲ၌နေမည်ဟု၊ ထာ
၁၁ ဝရဘုရားမိန့်တော်မူ၏၊- ထိုကာလ၌ လူမျိုးအ
မျှားတို့သည် ထာဝရ ဘုရားအက်သို့ ဝင်စား၍
ငါ၏ လူ ဖြစ်ကြ လိမ့်မည်၊ သင့်အထဲ၌ ငါနေ
မည်၊ ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား
သည်ငါ့ကို သင့်ဆီသို့ စေလွှတ် တော် မူသည် ကို
၁၂ သင်သိရ လိမ့်မည်၊- ထာဝရဘုရားသည် သန့်
ရှင်းသောပြည်၌ မိမိ အမှီ ယုဒပြည်ကို အမွေခံ
၍တဖန်ယေရုရှလင်မြို့ကိုရွေးချယ်တော်မူလိမ့်
၁၃ မည်၊- ဆိုလူသတ္တဝါအပေါင်းတို့၊ထာဝရဘုရား
ရှေ့တော်၌ ငြိမ်ဝပ်စွာ နေ ကြလော့၊ သန့်ရှင်း
သောကျိန်းဝပ်ရာဌာနတော်၌ထတော်မူပြီ။

၃

၁ ယဇ်ပုရောဟိတ်မင်း ယောရှု သည် ထာဝရ
ဘုရား၏ကောင်းကင်တမန်ရှေ့၌ရပ်နေသည်ကို
၎င်း၊ စာတန် သည် ရန် ဘက် ပြု၍ သူ၏ လက်ျာ
ဘက်၌ ရပ်နေ သည်ကို၎င် ငအားပြတော်မူ၏၊-
၂ ထာဝရဘုရား၏ ကောင်းကင် တမန် ကလည်း၊
ဆိုစာတန်၊ ထာဝရဘုရားသည်သင့်ကိုဆုံးမတော်
မူပါစေသော၊ ယေရုရှလင် မြို့ကို ရွေးချယ် ပြီး
သောထာဝရဘုရားသည်သင့်ကိုဆုံးမတော်မူပါ
စေသော၊ ဤသူသည်မီးထဲကနှုတ်သော ထင်းစ
ဖြစ်သည် မဟုတ်လောဟု စာတန် အား ဆို၏၊-
၃ ယောရှုသည်ညစ်ညူးသောအဝတ်ကိုဝတ်လျက်၊
ကောင်းကင် တမန် ရှေ့မှာ ရပ်နေသည် ဖြစ်၍၊-
၄ ကောင်းကင်တမန်က၊ ညစ်ညူးသောအဝတ်ကို
ချွတ်ပယ်ကြလော့ဟု၊ မိမိရှေ့မှာရပ်နေသော အ
ခြားသူတို့အား ဆို၏၊ ယောရှုအားလည်း၊ သင့်
အပြစ်ကိုငါပြေရှင်းပြီ၊ တင့်တယ်သောအဝတ်
၅ ကိုဝတ်စေမည်ဟုဆို၏၊- ငါကလည်း၊စင်ကြယ်
သောပေါင်းကိုသူ၏ခေါင်းပေါ်မှာတင်ကြစေဟု
ဆိုသည်အတိုင်း၊စင်ကြယ်သောပေါင်းကိုသူ၏
ခေါင်းပေါ်မှာ တင်၍ အဝတ်ကို ဝတ်စေကြ၏၊
ထာဝရဘုရား၏ကောင်းကင်တမန်သည်လည်း
အနားမှာရပ်နေ၏၊
၆ တဖန်ထာဝရဘုရား၏ကောင်းကင်တမန်သည်
ကောင်းကင်ဗိုလ်ခြေအရှင် ထာဝရဘုရား၏ အ
မိန့်တော်ကိုဆင့်ဆို၍ယောရှုအားပညတ်ထား
၇ သည် ကား၊- သင် သည် ငါ လမ်း သို့ လိုက် ၍ ငါ
ပညတ် တရားကို စောင့် ရှောက်လျှင်၊ ငါ့အိမ်ကို
စီရင် ရသော အခွင့်၊ ငါ တန်တိုင်းတို့ကို စောင့်ရ
သောအခွင့်ရှိလိမ့်မည်၊ရှေ့တော်၌ရပ်နေသော
သူအစရှိတို့ကို၊ သင့်အား ထပ်၍ပြုရသောသူ ဖြစ်
၈ မည့်အကြောင်း၊ငါခန့်ထားမည်၊- ဆိုယဇ်ပုရော
ဟိတ်မင်း ယောရှု၊ သင့်ရှေ့မှာ နေသော သင့်အ
ပေါင်းအဖော်တို့နှင့်တကွ နားထောင်လော့၊ သူ
တို့သည် နိမိတ်လက္ခဏာနှင့် ရှည်သောသူဖြစ်
ကြ၏၊ ငါ၏ကျွန် တည်းဟူသော အညွန့်ကို ငါ
၉ ပေါ်ထွန်းစေမည်၊- ယောရှုရှေ့မှာငါထားသော
ကျောက်ကို ကြည့်ရှုလော့၊ ထိုကျောက်တခုကို
မျက်စိ ခုနစ်လုံး ကြည့်ရှုလျက် ရှိလိမ့်မည်၊ ထို
ကျောက် ကိုလည်း၊ ငါ ထုလုပ်မည်၊ တနေ့ ချင်း
တွင် ဤပြည် ၏ အပြစ်ကို ငါ ပယ်ရှင်း မည်ဟု၊
ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရားမိန့်
၁၀ တော်မူ၏၊- ထိုနေ့၌ သင်တို့သည် မိမိတို့အိမ်နီး
ချင်းတယောက်ကိုတယောက်စုံပြင်အောက်၊
သင်္ဘောသဖန်းပင်အောက်သို့ ခေါ်မိတ်ကြလိမ့်
မည် ဟု၊ ကောင်း ကင် ဗိုလ် ခြေ အရှင် ထာဝရ
ဘုရားမိန့်တော်မူ၏၊

၄

၁ ငါနှင့်ပြောဆိုသော ကောင်းကင် တမန်သည်
ပြန်လာ၍၊အိပ်ပျော်သောသူကိုနှိုးသကဲ့သို့ငါ့ကို
၂ နှိုးလျက်၊- သင်သည် အဘယ်အရာကို မြင်သ
နည်းဟုမေးလျှင်၊ငါက၊အကျွန်ုပ်သည်ကြည့်ရှု
၍ရွှေအတိပြီးသောဆီမီးခုံကိုမြင်ပါ၏၊မီးခုံထိပ်
အဖျား၌ဆီအိုးတလုံး၊မီးခွက်ခုနစ်လုံး၊ဆီအိုး
နှင့်မီးခွက်ခုနစ်လုံး ဆက်သောပြွန်တံခုနစ်တံ
၃ ရှိပါ၏၊- ဆီအိုး လက်ျာဘက်၌ သံလွင်ပင် တ
ပင်၊လက်ဝဲဘက်၌တပင်၊ မီးခုံကိုထွန်းညှိသော
၄ သံလွင်ပင်နှစ်ပင်ရှိပါသည်ဟုဆိုပြီးမှ၊- ငါနှင့်
ပြောဆိုသောကောင်းကင်တမန်အား၊ အကျွန်ုပ်
သခင်၊ဤအရာတို့ကားအဘယ်အရာဖြစ်သနည်း
၅ ဟုမေးသော်၊- ငါနှင့်ပြောဆိုသောကောင်းကင်
တမန်က၊ ဤ အရာတို့ကား၊ အဘယ် အရာ ဖြစ်
သည်ကိုနားမလည်သလောဟုမေးလျှင်၊အကျွန်ုပ်
၆ နားမလည်ပါ သခင်ဟု လျှောက်၏၊- ကောင်း
ကင် တမန်က လည်း၊ ဇေရုဗဗေလ သို့ ရောက်
လာသော ထာဝရဘုရား၏နှုတ်ကပတ်တော်ဟူ
မူကား၊ ဤအမှုသည် ဗိုလ်ခြေအားဖြင့် မဟုတ်၊
အာဏာတန်ခိုးအားဖြင့်မဟုတ်၊ငါ့ဝိညာဉ်အား
ဖြင့်ဖြစ်လိမ့်မည်ဟု၊ကောင်းကင်ဗိုလ်ခြေအရှင်
၇ ထာဝရဘုရား မိန့်တော်မူ၏၊- ဆို တောင်ကြီး
သင်သည်အဘယ်သို့နည်း၊ဇေရုဗဗေလရှေ့မှာ

ညီသော အရပ်ဖြစ်ရလိမ့်မည်။ လူများ ထိုက၊
ကျေးဇူးတော်ရှိပါစေသော၊ ကျေးဇူးတော်ရှိပါ
စေသောဟုကြွေးကြော်လျက်၊ ထိုမင်းသည်ထုတ်
ဆောင်၍အထွဋ်ကျောက်ကိုတင်ထားရလိမ့်မည်။
၈ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၉ ငါ့ဆီသို့ ရောက်လာသည်ကား၊- ဇေရုဗဗေလ
၏လက်သည်၍အိမ်တော်အမြစ်ကိုချထားပြီ။ သူသည်
လည်း ထိတ်ဆ ထတ် ရလိမ့်မည်။ ကောင်းကင်
ဗိုလ်ခြေအရှင်ထာဝရဘုရားသည် ငါ့ကိုသင်တို့
ရှိရာသို့စေလွှတ်တော်မူသည်ကိုသင်တို့သိရကြ
၁၀ လိမ့်မည်။-အမှုငယ်ပြုသောနေ့ရက်ကိုအဘယ်
သူသည် မထီမဲ့မြင်ပြုရသနည်း။ မှန်ကြိုးသည်
ဇေရုဗဗေလလက်၌ ရှိသည်ကို ထိုခုနစ်ပါး တို့
သည်မြင်၍ဝမ်းမြောက်ကြလိမ့်မည်၊ ထိုခုနစ်ပါး
တို့ကား၊ မြေကြီးတပြင်လုံးတွင်တောင်မြောက်
ပြေးတတ်သော၊ ထာဝရဘုရား၏ မျက်စိ တော်
၁၁ များဖြစ်သတည်းဟုမိန့်တော်မူ၏။-ငါကလည်း၊
မီးခုံထက်ျာဘက်၊ လက်ဝဲဘက်၌ ရှိသောထိုသံ
လွင်ပင်နှစ်ပင်ကားအဘယ်သို့နည်း ဟူ၍၎င်း၊-
၁၂ ဆီညှစ်ရာ ရွှေစက်နှစ်ခု အားဖြင့်၊ မိမိ တို့ဆီကို
သွန်းလောင်းသောထိုသံလွင်ကိုင်းနှစ်ကိုင်းကား
အဘယ် သို့နည်းဟူ၍၎င်းမေးလျှောက်သော်၊-
ကောင်းကင် တမန်က၊ ထိုအကိုင်း တို့ကို နားမ
လည်သလောဟုမေးလျှင်၊ အကျွန်ုပ်နားမလည်
၁၄ ပါသခင်ဟုလျှောက်၏။- ကောင်းကင်တမန်က
လည်း၊ ထိုအကိုင်းတို့သည် မြေကြီး တပြင်လုံး
ကိုအစိုးပိုင်တော်မူသောအရှင်၏ရှေ့တော်၌ရပ်
နေသောဘိသိတ်ခံသူနှစ်ပါးဖြစ်သည်ဟုဆို၏။

၅

၁ တဖန်ငါမျှော်ကြည့်၍၊ ပျံ့ဝဲလျက်ရှိသော စာ
၂ စောင်ကိုမြင်၏။- ကောင်းကင်တမန်ကလည်း၊
သင်သည် အဘယ်အရာကို မြင်သနည်းဟု မေး
လျှင်၊ ပျံ့ဝဲလျက်ရှိသောစာစောင်ကိုမြင်ပါ၏။ အ
လျား အတောင် နှစ်ဆယ်၊ အနံ အတောင် တ
၃ ဆယ်ရှိပါသည်ဟုလျှောက်၏။- ကောင်းကင်တ
မန်ကလည်း၊ ထိုစာစောင်သည် တပြည်လုံး ကို
နှံ့ပြားသောကျိန်ခြင်းဖြစ်၏။ ခိုးတတ်သောသူရှိ
သမျှတို့သည်၊ ထိုစာစောင်တဖက်၌ပါသည် အ
တိုင်း ပယ်ဖြတ်ခြင်းကို ခံရကြမည်။ အကျိန်ခဲ
သောသူရှိသမျှတို့သည်၊ ထိုစာစောင်တဖက်၌ပါ
သည် အတိုင်း ပယ်ဖြတ်ခြင်းကို ခံရကြမည်။-
၄ ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရဘုရား မိန့်
တော်မူသည်ကား၊ ထိုစာစောင်ကို ငါထုတ်ဆော်
မည်။ ခိုးတတ်သောသူ၏အိမ်ထဲသို့၎င်း၊ ငါ့နာမကို
တိုင်တည်၍မမှန်သောကျိန်ဆိုခြင်းကိုပြုသော
သူ၏ အိမ်ထဲသို့ ၎င်း ဝင်၍ နေရာကျသဖြင့်၊ ထစ်
သားများ၊ ကျောက်များနှင့်တကွ ထိုအိမ်ကိုစား
လိမ့်မည်ဟုမိန့်တော်မူ၏။
၅ တဖန်ငါနှင့်ပြောဆိုသောကောင်းကင်တမန်
သည်ထွက်၍၊ ယခုထွက်လာသောအရာကိုမျှော်
၆ ကြည့်လော့ဟု ငါ့အား ဆိုလျှင်၊- ထိုအရာကား
အဘယ် အရာနည်းဟု ငါမေး သော်၊ ထို အရာ
သည် ထွက်သွားသော ဧဖာဖြစ်သည်ဟူ၍၎င်း၊
ထိုအရာသည်တပြည်လုံး၌သူတို့၏အကြံအစည်
၇ ဖြစ်သည်ဟူ၍၎င်းဆို၏။- ခဲအခွက် တဆယ်ကို
လည်း အထက်သို့ ချီမြှောက်၍၊ မိန်းမတယောက်
၈ သည်ဧဖာထဲ၌ထိုင်သည်ကိုငါမြင်၏။-ကောင်း
ကင်တမန်ကလည်း၊ ထိုမိန်းမသည် ဒုစရိုက်အဖြစ်
ဖြစ်၏ဟု ဆိုလျက်၊ သူကိုဧဖာထဲသို့ ချထား၍ ဧ
၉ ဖာ အဝပေါ်မှာ ခဲပြားကို တင်လေ၏။- တဖန်ငါ
မျှော်ကြည့်၍၊ တောငန်း၏ အတောင်ကဲ့သို့၊ အ
တောင်ရှိသောမိန်းမနှစ်ယောက်တို့သည်၊ အတောင်
တို့၌ဝိညာဉ်ပါလျက်ထွက်လာ၍၊ ထိုဧဖာကိုမြေ
ကြီးနှင့် မိုဃ်းကောင်းကင် စပ်ကြား သို့ ချီသွား
၁၀ ကြ၏။-ထိုဧဖာကိုအဘယ်သို့ချီသွားကြသနည်း
ဟု၊ ငါနှင့်ပြောဆိုသောကောင်းကင်တမန်အား
၁၁ ငါမေးသော်၊-ရှိနာပြည်၌ဧဖာအဖို့အိမ်ဆောက်
ခြင်းငှါ ချီသွားကြ၏။ ထိုပြည်၌ သူ၏ ခုံပေါ်မှာ
တင်ထား၍နေရာချကြလိမ့်မည်ဟုဆို၏။

၆

၁ တဖန်ငါမျှော်ကြည့်၍၊ ကြေးဝါဖြင့်ပြီးသော
တောင်နှစ်လုံးကြားမှရထားလေးစီးထွက်လာ
၏။- ပဌမရထား၌မြင်းနီ၊ ဒုတိယရထား၌မြင်း
နက်၊-တတိယရထား၌မြင်းဖြူ၊ စတုတ္ထရထား၌
ခွန်အားကြီးသောမြင်းကျားတို့သည်ကလျက်ရှိ
၄ ကြ၏။- အကျွန်ုပ်သခင်၊ ထိုရထားတို့ကားအ
ဘယ်သို့နည်းဟု၊ ငါနှင့်ပြောဆိုသော ကောင်း
၅ ကင်တမန်အား ငါမေးသော်၊- ကောင်းကင်တ
မန်က၊ ထိုရထားတို့သည်၊ မြေကြီးတပြင်လုံးကို
အစိုးပိုင်တော်မူသောအရှင်၏ရှေ့တော်၌ရပ်နေ
ရာမှ ထွက်သွားသော မိုဃ်းကောင်းကင် လေ
၆ လေးပါးဖြစ်၏။- ကသော မြင်းနက် တို့သည်
မြောက်ပြည်သို့သွားကြ၏။ မြင်းဖြူတို့သည်မြင်း
နက်နောက်သို့ လိုက်ကြ၏။ မြင်းကျားတို့သည်

၇ တောင်ပြည်သို့ သွားကြ၏ ဟုဆို၏၊- ရွန်အား
ကြီးသောမြင်းတို့သည်ထွက်၍၊ မြေကြီးပေါ်မှာ
တောင်မြောက်သို့လှည့်လည်ခြင်းငှါ အားထုတ်
ကြ၏၊ ကောင်းကင်တမန်ကလည်း၊ သွား၍မြေ
ကြီးပေါ်မှာ တောင် မြောက် သို့ လှည့် လည် ကြ
လော့ဟု ဆို သည်အတိုင်း၊သူတို့သည်မြေကြီးပေါ်
၈ မှာတောင်မြောက်သို့လှည့်လည်ကြ၏၊- ကောင်း
ကင်တမန်သည်လည်းငါ့ကိုခေါ်၍၊ ကြည့်လော့၊
မြောက်ပြည်သို့ သွားသော မြင်းတို့ သည် ငါ့စိ
တ်ကိုမြောက်ပြည်၌တည်စေကြပြီဟု ဆို၏၊
၉ တဖန်ထာဝရဘုရား၏နှုတ်ကပတ်တော်သည်
၁၀ ငါ့ဆီသို့ ရောက် လာ သည် ကား၊- အရင်သိမ်း
သွား၍ခင်းကို ခံရ၍ ဗာဗုလုန် မြို့မှ ပြန် လာ
သောဟေလဒဲအမျိုး၊ တောဘိယအမျိုး၊ ယေဒါ
ယအမျိုး၊အသို့တို့ကိုခေါ်၍၊ တနေ့ချင်းတွင် ဇေ
၁၁ ဖနိ၏သား ယောရှိအိမ်သို့ သွားပြီးသော်၊- ရွှေ
ငွေတို့ကို ယူ၍ သရဖူကို လုပ်ပြီးလျှင်၊ ယောဇ
ဒက်သားယဇ်ပုရောဟိတ်မင်းယောရှု၏ခေါင်း
၁၂ ပေါ်မှာတင်လော့၊- ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရဘုရား၏ အမိန့်တော်ကို ထိုသူအားဆင့်
ဆိုရမည်မှာ၊ အညွန့်အမည်ရှိသောသူကိုကြည့်ရှု
လော့၊ မိမိနေသအရပ်၌ပေါက်၍ထာဝရဘုရား
၁၃ ၏မိတ်မှန်တော်ကိုတည်ဆောက်လိမ့်မည်၊-ထာ
ဝရဘုရား၏ မိတ်မှန်တော်ကို တည်ဆောက်ပြီး
လျှင်၊ ဘုန်းကြီး၍ မိမိ ရာဇပလ္လင် ပေါ်မှာ ထိုင်
လျက် စိုးစံလိမ့်မည်၊ ရာဇပလ္လင် တော်ပေါ်မှာ
ယဇ်ပုရောဟိတ်လည်းဖြစ်၍၊ထိုနှစ်ပါးတို့သည်
၁၄ မိဿဟာယ ပရိညည်ကို ဖွဲ့ကြလိမ့်မည်၊- ထို
အရာသည်ဟေလင်၊တောဘိယ၊ယေဒါယ၊ ဇေ
ဖနိ၏ သားဟင်တို့အဖို့၊ ထာဝရဘုရား၏ မိတ်
၁၅ မှန်တော်၌ အောက်မေ့ဖွယ်ဖြစ်ရမည်၊- ဝေးသော သူ
တို့သည်လည်း လာ၍ထာဝရ ဘုရား၏ မိတ်မှန်
တော်၌တည်ဆောက်ကြလိမ့်မည်၊ကောင်းကင်
ဗိုလ်ခြေ အရှင်ထာဝရ ဘုရားသည် ငါ့ကိုသင်တို့
ရှိရာသို့စေလွှတ်တော်မူသည်ကိုသင်တို့သိရကြ
လိမ့်မည်၊ သင်တို့သည် သင်တို့၏ ဘုရားသခင်
ထာဝရဘုရား၏အမိန့်တော်ကိုစေ့စေ့နားထောင်
လျှင်၊ဤသို့ဖြစ်ရလိမ့်မည်ဟုမိန့်တော်မူ၏

၇

၁ ဒါရိမင်းကြီးနန်းစံလေးနှစ်၊မိဿထုမည်သော
၂ နဝမ လ လေးရက်နေ့တွင်၊- ထာဝရ ဘုရားရှေ့
၃ တော်၌ ဆုတောင်းခြင်းငှါငှင်၊- နှစ်ပေါင်းများ
စွာပြုသကဲ့သို့ ပဉ္စမလတွင်ငိုကြွေး၍ ငြိမ်ဝပ်စွာ
ကျင့်ရပါမည်လောဟု၊ ကောင်းကင်ဗိုလ်ခြေ အ
ရှင်ထာဝရဘုရား၏ အိမ်တော်၌ ရှိသောယဇ်ပု
ရောဟိတ်နှင့် ပရောဖက် တို့ အား မေး လျှောက်
ခြင်းငှါငှင်၊ ရှရေဇာ၊ရေဂမေလက်နှင့် သူတို့လူ
များကိုဘုရားသခင်၏အိမ်တော်သို့ စေလွှတ်ကြ
၄ သောအခါ၊- ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား၏ နှုတ် ကပတ် တော်သည် ငါ ဇာခရိ သို့
၅ ရောက်လာ၍၊- ယဇ်ပုရောဟိတ်တို့နှင့်ပြည်သူ
ပြည်သားအပေါင်းတို့အားသင်ဆင့်ဆိုရမည်မှာ၊
အနှစ်ခုနှစ်ဆယ်ပတ်လုံးသင်တို့သည် ပဉ္စမလ
နှင့်သတ္တမလတွင် အစာရှောင်၍ ငိုကြွေး မြည်
တမ်းသောအခါ၊အကယ်စင်စစ် ငါ့အလို့ငှါသည်
၆ အတိုင်းငါ့အား အစာ ရှောင် ကြသလော၊- စား
သောက် သော အ ခါ၌ လည်း ကိုယ် အ လို အ
လျောက် စားသောက် ကြသည် မဟုတ် လော၊-
၇ ယေရုရှလင်မြို့မပျက်၊ စည်ပင်၍ ပတ်ဝန်းကျင်၌ ရှိ
သော မြို့ရွာ၊ တောင် ရှုတ်နှာ ထရယ်နှင့် မြေညီ
သာအရပ်၌လူများသေးသောအခါ၊ရှေးပရော
ဖက်တို့ဖြင့် ထာဝရ ဘုရား ကျွေးကြော်တော်မူ
သောအမိန့်တော်ပြည့်စုံပြီမဟုတ် လောဟု မိန့်
တော်မူ၏၊
၈ ထိုအခါ ထာဝရဘုရား၏ နှုတ်ကပတ် တော်
၉ သည်ဇာခရိသို့ရောက်လာသည်ကား၊- တရား
အမှုကိုတရားသဖြင့် စီရင်ကြလော့၊သနားခြင်း
ကရုဏာ စိတ်နှင့် တ ယောက် ကို တ ယောက်
၁၀ ကျေးဇူး ပြုကြလော့၊- မိဘမရှိသောသူ၊ ခင်ပွန်း
မဲ့၊တကျွန်းတနိုင်ငံသား၊ဆင်းရဲသားကိုမညှဉ်းဦး
ဆဲကြနှင့်၊ တယောက်ကို တယောက် မကောင်း
သောအကြံကိုမကြံကြနှင့်ဟု၊ ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရားမိန့်တော်မူသော်လည်း၊-
၁၁ သူတို့သည်နားမထောင်ဘဲ လွှတ်ဆောင်ရုန်းကြ
၁၂ ၏၊မကြားစေခြင်းငှါ နားကိုပိတ်ကြ၏၊- တရား
စကား ကိုငှင် ကောင်းကင် ဗိုလ်ခြေ အရှင် ထာ
ဝရဘုရား၏ဝိညာဉ်တော်သည်ရှေးပရောဖက်တို့
ဖြင့် ထားတော်မူသောစကားကိုငှင်၊ သူတို့သည်
မကြားစေခြင်းငှါ၊မိမိတို့ နှလုံးကိုမိန့်ကျောက်
ကဲ့သို့မာစေကြ၏၊ ထိုကြောင့်၊ ကောင်းကင်ဗိုလ်
ခြေ အရှင် ထာဝရ ဘုရားသည် အမျက်အရှိန်
၁၃ ထွက်တော်မူ၏၊-ငါတစ်ခေါ်၍ သူတို့သည်နား
မထောင်သကဲ့သို့၊ တဖန်သူတို့သည်အော်ဟစ်၍
ငါသည်၊ နားမထောင်ဘဲနေပြီဟု၊ ကောင်းကင်

၁၄ ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏၊- သူ
တို့မသိသောလူမျိုး အပေါင်းတို့တွင် ထေ ဘွေ
ထိုးထ်၍ငါလွှင့်ပြီ၊ထိုကြောင့်၊သူတို့ပြည်သည်လူ
ဆိတ်ညံ့လျက်ရှိ၍ အဲထယ်သူမျှ မသွား မလာ၊
သာယာသောပြည်သည် သုတ်သင်ပယ်ရှင်းရာ
ဖြစ်ထေပြီတကားဟုမိန့်တော်မူ၏။

၈

၁ တဖန် ကောင်းကင် ဗိုလ်ခြေ အ ရှင် ထာ ဝရ
ဘုရား၏နှုတ်ကပတ်တော်သည် ငါ့ဆီသို့ ရောက်
၂ လာ၍၊- ကောင်းကင် ဗိုလ်ခြေ အ ရှင် ထာ ဝရ
ဘုရား မိန့် တော်မူသည် ကား၊ ငါ သည် ဇိအုန်
တောင်အမှုအလွန်မိတ်အား ကြီး၍၊ အလွန်အ
၃ မျက်ထွက်၍သူအမှုမိတ်အားကြီးပြီ၊- ကောင်း
ကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့် တော်မူ
သည်ကား၊ဇိအုန်တောင်သို့ငါပြန်လာပြီ၊ယေရု
ရှလင်မြို့ထဲမှာနေမည်၊ ယေရုရှလင်မြို့ကို သစ္စာ
မြို့ဟူ၍၎င်း၊ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရား၏ တောင်တော်ကိုသန့်ရှင်းသော တောင်
၄ ဟူ၍၎င်းသမုတ်ကြလိမ့်မည်၊- ကောင်းကင်ဗိုလ်
ခြေအရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊
ထိုသောအိုယောကျ်ား၊မိန်းမ၊ အသက်ကြီး၍ တောင်
ဝေးကိုင်သောသူအပေါင်းတို့သည် ယေရုရှလင်
၅ မြို့လမ်းတို့၌နေကြဦးမည်၊- မြို့လမ်းတို့သည်
ထဲ့ဦး ကစားသောသူငယ်ယောကျ်ား၊မိန်းမတို့နှင့်
၆ အပြည့်ရှိကြလိမ့်မည်၊-တဖန်မိန့်တော်မူသည်
ကား၊ ထိုအမှုသည်ယခုကာလတွင်ကျန်ကြွင်း
သော ဤလူတို့မျက်မှောက်၌ အံ့ဩဘွယ်ဖြစ်
သော်လည်း၊ ငါ့မျက်မှောက်၌အံ့ဩဘွယ်ဖြစ်
ရာသလောဟု၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာ
၇ ဝရဘုရား မိန့်တော်မူ၏၊- ကောင်းကင် ဗိုလ်ခြေ
အရှင်ထာဝရဘုရား မိန့်တော်မူသည်ကား၊ ငါ
၏လူတို့ကိုအရှေ့ပြည်မှ၎င်း၊ အနောက်ပြည်မှ၎င်း
၈ ငါ ကယ်တင်၍၊- ဆောင်ခဲ့သဖြင့် သူတို့သည်
ယေရုရှလင် မြို့ထဲမှာ နေရကြလိမ့်မည်၊ သစ္စာ
တရားနှင့်ဖြောင့်မတ်ခြင်းတရားအားဖြင့်၊သူတို့
သည်ငါ၏လူဖြစ်၍ငါသည်လည်းသူတို့၏ ဘုရား
သခင်ဖြစ်လိမ့်မည်။

၉ ကောင်းကင် ဗိုလ် ခြေ အရှင် ထာ ဝရဘုရား
မိန့်တော်မူသည်ကား၊ မိတ်မှန် တော်ကို တည်
ဆောက်ခြင်းငှါ၊ကောင်းကင်ဗိုလ်ခြေအရှင်ထာ
ဝရဘုရား၏ အိမ်တော်တိုက်မြစ်ကို ချသောကာ
လ၌ ရှိသော ပရောဖက်တို့ ဟော ပြောသော ဤ
စကားကိုယခုကာလ၌ကြားသောသူတို့၊အင်အား
၁၀ ထက်ကို အားကြီးစေကြလော့၊- ထိုကာလ အ
ထက်၌ လူခံရသော အကျိုးမရှိ၊ တိရစ္ဆာန် ခံရ
သောအကျိုးမရှိ၊ထွက်ဝင်သောသူတို့သည် ရန်
သူရှိသော ကြောင့် ချမ်းသာမရကြ၊ ငါသည် လူ
အပေါင်းတို့ကို တယောက် နှင့် တယောက် ရန်
၁၁ ထက်ဖြစ်စေ၏၊- ယခုမူကား၊ကျန်ကြွင်းသောဤ
လူတို့၌ငါသည်အရင်ကဲ့သို့မပြုဟု၊ကောင်းကင်
၁၂ ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏၊-မျိုး
စေ့ကို ငြိမ်ဝပ်စွာကြဲရလိမ့်မည်၊ စပျစ်ပင်သည်
အသီးကို၎င်း၊ မြေသည် မိမိ၏ပွားကို၎င်း၊ မိုဃ်း
ကောင်းကင် သည် နှင်းရည် ကို၎င် ပေးရလိမ့်
မည်၊ ကျန်ကြွင်းသောဤလူတို့သည် ဤအရာအ
၁၃ လုံးစုံတို့ကိုရတတ်စေခြင်းငှါငါပြုမည်၊-ထိုယုဒ
အမျိုးနှင့် ဣသရေလအမျိုးတို့၊ သင်တို့သည်တ
ပါးအမျိုး တို့တွင် ကျိန် ဆဲရာဖြစ် ဘူးသကဲ့သို့၊
ကောင်းကြီး ခံရာဖြစ်စေခြင်းငှါ ငါ ကယ်တင်
မည်၊ မစိုးရိမ်ဘဲ ထက် အား ကြီးကြ လော့၊-
၁၄ ကောင်းကင် ဗိုလ်ခြေ အရှင်ထာဝရ ဘုရား မိန့်
တော်မူသည်ကား၊ သင်တို့၏ဘိုးဘေး တို့သည်
ငါ့အမျက်ကို နှိုးဆော် ကြ သော အခါ တပြစ် ပြု
၁၅ မည်ဟု၊ငါသည်နောင်တမရဘဲကြံသကဲ့သို့၊-တ
ဖန် ယခု ကာလ၌ ယေရုရှလင်မြို့နှင့် ယုဒအမျိုး
ကိုကျေးဇူးပြုမည်ဟု ငါကြံပြန်၏၊ မစိုးရိမ်ကြ
နှင့်ဟု၊ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား
၁၆ မိန့်တော်မူ၏၊- သင်တို့ကျင့်ရမည် အကျင့်ဟူမူ
ကား၊ သင်တို့ ရှိသမျှ သည် တ ယောက်နှင့် တ
ယောက် မှန်သောစကားကို ပြောကြလော့၊ မြို့
တံခါးဝမှာ ဖြောင့်မတ်စွာစီရင်၍၊ တရား တွေ့
သည်အမှုကိုငြိမ်းစေခြင်းငှါဆုံးဖြတ်ကြလော့၊-
၁၇ တယောက်ကိုတယောက်အဘယ်သူမျှမကောင်း
သောအကြံကို မကြံကြနှင့်၊ မမှန်သောကျိန်ဆို
ခြင်းကိုမနှစ်သက် ကြနှင့်၊ ထိုသို့သောအမှုရှိသ
မျှတို့ကိုငါမုန်းသည်ဟု၊ ထာဝရဘုရားမိန့်တော်
မူ၏။

၁၈ တဖန် ကောင်း ကင် ဗိုလ် ခြေ အရှင် ထာဝရ
ဘုရား၏ နှုတ်ကပတ်တော်သည် ငါ့ဆီသို့ ရောက်
၁၉ လာ၍၊- ကောင်း ကင် ဗိုလ် ခြေ အရှင် ထာဝရ
ဘုရား မိန့်တော်မူသည်ကား၊ စတုတ္ထလတွင် အ
စာရှောင်ခြင်း၊ ပဉ္စမလတွင်အစာ ရှောင်ခြင်း၊
သတ္တမ လတွင် အစာရှောင်ခြင်း၊ ဒသမလတွင်
အစာရှောင်ခြင်းတို့သည်ယုဒအမျိုးဝမ်းမြောက်



 

ရှင်ထန်း၊ ၌ ပွဲလုပ်ရာ ကာလ ဖြစ်ကြလိမ့်မည်၊
ဖြောင့်မတ် ခြင်းတရား၊ ငြိမ်ဝပ်ခြင်းတရား ကို
၂၀ နှစ်သက်ကြလော့။- ကောင်းကင်ဗိုလ်ခြေအရှင်
ထာဝရ ဘုရား မိန့်တော်မူသည်ကား၊ ရွာ၊ရွာ
သောမြို့သူ ရွာသား။ လူအမျိုးမျိုးတို့သည်လာ
၂၁ ကြလိမ့်မည်။-မြို့တမြို့၌နေသောသူသည်အခြား
မြို့တမြို့၌ နေသော သူတို့ ဆီသို့သွား၍၊ထာဝရ
ဘုရားရှေ့တော်၌ ဆုတောင်းခြင်းငှါငှင်၊ကောင်း
ကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရားကို ရှာခြင်းငှါ
ငှင် ကျေန်အရှိန်သွားကြကုန်အံ့၊ ငါလည်းသွား
မည်ဟုခေါ်ကြလိမ့်မည်၊- ကြီးသောတိုင်းနိုင်ငံ
သား။ လူအမျိုးမျိုး တို့သည် ကောင်းကင် ဗိုလ်
ခြေအရှင်ထာဝရဘုရားကို ယေရုရှလင်မြို့၌ရှာ
၍၊ ထာဝရဘုရားရှေ့တော်၌ ဆုတောင်းခြင်းငှါ
၂၃ လာကြလိမ့်မည်၊- ထိုကာလ၌ ထာသာ အသီး
အသီးကို ပြောတတ်သော လူအမျိုးမျိုး တို့တွင်
ဆယ်ယောက်သောလူတို့သည်၊ ယုဒလူဖြစ်သော သူ၏
အဝတ်စွန်းကို ကိုင်လျက်၊ ဘုရား သခင် သည်
သင်နှင့် အတူ ရှိတော် မူသည်ဟု၊ အကျွန်ုပ် တို့
သည်ကြားသိ၍၊ သင်တို့နှင့် အတူ လိုက်ပါမည်
ဟု ဆိုကြလိမ့်မည်ဟု၊ ကောင်းကင် ဗိုလ်ခြေ အ
ရှင်ထာဝရဘုရားမိန့်တော်မူ၏။

၉

၁ ထာဝရ ဘုရား ၏ ဗျာဒိတ် နှုတ်ကပတ် တော်
သည် ဟာဒရက် ပြည် နှင့် ဒမာသက် မြို့ ၌သင့်
ရောက်ပေ၏၊ ထာဝရဘုရားသည် လူမျိုးကိုင်၎င်၊
ဣသရေလ အမျိုး အနွယ် အပေါင်း တို့ကို၎င်
၂ ကြည့်ရှုလျက်ရှိတော်မူ၏။- ထိုပြည်နှင့် နီးစပ်
သောဟာမတ် ပြည်၌၎င်၊ တုရု မြို့ သည် လိမ္မာ
သောကြောင့် ထိုမြို့နှင့် ဇိဒုန်မြို့၌၎င် သင့်ရောက်
၃ ပေ၏။- တုရုမြို့သည် မိမိအဖို့ ရဲတိုက်ကို တည်
ဆောက်၍၊ ငွေကို မြေမှုန့် ကဲ့သို့၎င်၊ ရွှေစင် ကို
ထမ်း၌ ရှိသော ရွှံ့ကဲ့သို့၎င် စုပုံသော် သည်။-
၄ ထာဝရဘုရားသည်သူတပါးထက်သို့ သုကိုအစ်
၍၊ သူ့စွန်အားကို ပင်လယ်ထဲသို့ ချဖောင် မူသ
၅ ဖြင့်၊ မြို့သည်မီးဖြင့်တွမ်းထောင်လိမ့်မည်။- ထို
အမှုကို အာရှကေလုန်မြို့ သည် မြင်၍ ကြောက်
လိမ့်မည်၊ ဂါဇမြို့သည် မြင်၍ အလွန်တုန်လှုပ်
လိမ့်မည်၊ ဧကြုန်မြို့ သည်၊ မျှော်လင့်၍ အရှက်
ကွဲသောကြောင့်ထိုအတူဖြစ်လိမ့်မည်၊ဂါဇမင်း
ကြီးသည်ဆုံးလိမ့်မည်၊ အာရှကေလုန်မြို့သည်
၆ လူညီ၊အမှီးမရ။- အာဇုတ်မြို့၌ အကျွန်းတနိုင်ငံ
သားတို့သည် နေကြလိမ့်မည်၊ ဖိလိတ္တိ အမျိုး၏
၇ မာန ကို သည်၊ ငါချိုး၍ မည်။- ထုအား သော အ
သွေးကို သူ၏ပစပ်ထဲမှ၎င်၊ ထုကိုတ်သော ရွံ့ရှာ
ဖွယ်တို့ ကို သူ၏ သွား ကြားမှ၎င် ငါနုတ်ပယ်
မည်၊ ကျန်ကြွင်းသောသူသည်လည်းငါတို့ဘုရား
သခင် အဖို့ ကျန်ကြွင်း၍၊ ယုဒ ပြည်၌ မင်းကဲ့သို့
နေလိမ့်မည်၊ ဧကြုန်မြို့သားသည်၊ ယေဗုသိ လူ
၈ ကဲ့သို့ ဖြစ်လိမ့်မည်။- အထထ ရန်သူမှ မထွေ
မဝင်စေခြင်းငှါ၊ ငါ့အိမ်တော်ပတ်ထည်၌တပ်ချ
မည်၊ ညှဉ်းဆဲသောသူသည်လူတို့ကို နောက်
တဖန် မနှိပ်နှင်းရ၊ အကြောင်းမူကား၊ ငါသည်
၉ ယခုကိုယ်တိုင်ကြည့်၍မြင်ပြီ။- ဇိအုန်သမီး
တို့၊ အလွန်ဝမ်းမြောက်လော့၊ ယေရုရှလင်
မြို့သတို့သမီး၊ ကြွေးကြော်လော့၊ တရား သဖြင့်စီ
ရင်၍ကယ်တင်ခြင်းသို့ရောက်သောသခင်၊ သင်
၏ အရှင်မင်းကြီးသည်မြည်းမနှင့် မြည်းကလေးကို စီး
၍ နှိမ့်ချသိမ်မွေ့သော စိတ်နှင့် သင်ရှိရာသို့ကြွ
၁၀ လာတော်မူသည်ကို ကြည့်ရှုလော့။- ငါသည်
ဧဖရိမ်ပြည်၌ရထားကို၎င်၊ယေရုရှလင်မြို့၌မြင်း
ကို၎င် ပယ် ဖြတ် မည်၊ စစ်လေး ကိုလည်း ပယ်
ဖြတ်မည်၊ တပါးအမျိုးသား တို့သည် စစ်ငြိမ်း
မည် အကြောင်းကို ထိုအရှင် သည် မိန့် တော်မူ
မည်၊ အာဏာ တော် သည်၊ ပင်လယ် တပါး မှ
သည်ပင်လယ်တပါးတိုင်အောင်၎င်၊မြစ်မှသည်
မြေကြီး စွန်းတိုင်အောင်၎င်တည်လိမ့်မည်၊
၁၁ သင်၏ အမှု မူကား၊ ချုပ်ထား လျက် ရှိသော
သင်၏လူတို့ကို၊ရေမရှိသောမြေတွင်းထဲကအသင်
နှင့် ဖွဲ့သောပဋိညာဉ် အသွေး ကြောင့် ငါ ထုတ်
၁၂ ဖွတ်မည်။- အချုပ်ခံ၍ မျှော်လင့်သောသူတို့၊
ရဲတိုက် သို့ ပြန်လာ ကြလော့၊ ငါ သည် နှစ်ဆ
သော ကျေးဇူး ကို ပြုဦး မည်ဟု ယနေ့ ပင်ပြော
၁၃ ထား၏။-ယုဒလေးကိုငါတင်၍၊ဧဖရိမ်လေးကို
ဆွဲငင်လျက်၊ဇိအုန်သားတို့ကိုဂရိတိုင်းသားတို့
တဖက်၌ နှိုးဆော်၍၊ သင့်ကို သူရဲ၏ ထား ကဲ့သို့
၁၄ ဖြစ်စေမည်။- ထာဝရဘုရားသည် သူတို့အပေါ်
မှာထင်ရှားတော်မူ၍၊ မြှားတော်သည် လျှပ်စစ်
ပြက် ကဲ့ သို့ ပြေး လိမ့် မည်၊ အ ရှင် ထာ ဝရ
ဘုရားသခင်သည်တံပိုးမှုတ်၍၊ တောင်လေပွေ
၁၅ တို့နှင့် ကြွ သွားတော်မူလိမ့်မည်။- ကောင်းကင်
ဗိုလ်ခြေအရှင်ထာဝရဘုရားသည် သူတို့ကိုကွယ်
ကာ တော်မူသ ဖြင့်၊ သူတို့ သည် ကိုယ် စား၍
ထက်ကွဲကျောက်တို့ကို ကျော်နင်းကြလိမ့်မည်၊

သောက်ပြီးလျှင်၊ စပျစ်ရည်နှင့်ဝသကဲ့သို့ကျွေး
ကြော်ကြလိမ့်မည်။အင်တုံကဲ့သို့၎င်း၊ယဇ်ပလ္လင်
၁၆ ထောင့်ကဲ့သို့၎င်း ပြည့်ဝကြလိမ့်မည်။- ထိုနေ့၌
သူတို့၏ ဘုရားသခင်ထာဝရဘုရားသည် မိမိလူ
တို့ကိုသိုးစုကဲ့သို့ကယ်တင်တော်မူလိမ့်မည်။သူ
တို့သည် မြေတော်၌ ထင်ရှားသော သရဖူ ဖူးက်
၁၇ ရွှန်ကဲ့သို့ဖြစ်ကြလိမ့်မည်။-ကျေးဇူးတော်သည်
အလွန်ကြီးစွတကား။ဂုဏ်အသရေတော်သည်း
အလွန်ကြီးစွတကား။ဆန်စပါးသည်လုလင်တို့
ကို၎င်း၊ စပျစ်ရည်သစ်သည်အပျိုမတို့ကို၎င်း တိုး
ပွားများပြားစေလိမ့်မည်။

၁၀

၁ နောက်မိုဃ်းရွာရာကာလတွင် မိုဃ်းရွာစေ
မည်အကြောင်း၊ ထာဝရ ဘုရားထံ တော် ၌ ဆု
တောင်းကြလော့။ထာဝရဘုရားသည် လျှပ်စစ်
ကို ဖန်ဆင်း၍ များ စွာ မိုဃ်း ရွာစေ သဖြင့်၊ ခပ်
သိမ်းသော လူတို့အဖို့ လယ်ပြင်၌ အပင်ပေါက်
၂ စေတော်မူမည်။-တေရပ်ရုပ်တုတို့သည် အနတ္တ
စကားကိုပြောကြ၏။ပရောဖက်လုပ်သောသူတို့
သည်စုသာရူပါရုံကိုမြင်၍၊ မမှန်သောအိပ်မက်
ကို ဟောပြောကြ၏။ အချည်းနှီး နှစ်သိမ့်စေကြ
၏။ထိုကြောင့်၊သိုးစုကဲ့သို့သည်သွား၍ သိုးထိန်း
၃ မရှိသောကြောင့်ဆင်းရဲခံရကြ၏။-သိုးထိန်းတို့
ကိုငါအမျက်ထွက်၍၊ ဆိတ်ထီးတို့ကိုစစ်ကြော
သဖြင့်၊ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရား
သည်မိမိ သိုးစု ယုဒအမျိုးကို အကြည့်အရှုကြွ
လာ၍၊ဘုန်းတော်ကိုဆောင်သောစစ်တိုက်မြင်း
၄ ကဲ့သို့ဖြစ်စေတော်မူမည်။- ထိုအမျိုးထဲကထိုက်
ထောင့်အမြစ်ကျောက်၊တံသို၊စစ်တိုက်လေး၊မင်း
ဖြစ်သော လူ အပေါင်း တို့သည် ထွက်ကြ လိမ့်
၅ မည်။- သူတို့သည် စစ်တိုက် ရာတွင် လမ်း၌ ရှိ
သောရွှံ့ကို နင်းသော စစ်သူရဲကဲ့သို့ ဖြစ်ကြလိမ့်
မည်။ ထာဝရ ဘုရား၏ ကျေးဇူး တော်ကို ခံရ
သောကြောင့်၊ စစ်တိုက်၍မြင်းစီးသူရဲ တို့ကိုအ
၆ ရှက်ခွဲကြလိမ့်မည်။-ယုဒအမျိုးကိုထည်းငါခိုင်
ခံ့စေမည်။ ယောသပ် အမျိုး ကိုလည်း ငါ ကယ်
တင်မည်။သူတို့ကိုသနားစုံမက်သောကြောင့်နေ
ရာချမည်။ သူတို့သည် နှင်ထုတ် ခြင်းကို မခံဘူး
ဖကဲ့သို့ဖြစ်ကြလိမ့်မည်။ငါသည်သူတို့၏ဘုရား
သခင် ထာဝရဘုရားဖြစ်၍ သူတို့စကားကို နား
၇ ထောင်မည်။-ဧဖရိမ်အမျိုးသားတို့သည်သူရဲကဲ့
သို့ဖြစ်၍၊ စပျစ်ရည်နှင့် ဝသကဲ့သို့ဝမ်းမြောက်
ကြလိမ့်မည်။သားမြေးတို့သည်မြင်လျက် ဝမ်း
မြောက်၍၊ ထာဝရ ဘုရား ကို အမှီပြုလျက် ရွှင်
၈ လန်းကြလိမ့်မည်။- သူတို့ကို ငါရှိုးဆော်၍ စု
ဝေးစေမည်။ သူတို့သည်ငါ၏ရွေးနှုတ်ခြင်းကိုခံ
ရသောအားဖြင့်၊အရင်များပြားသကဲ့သို့ တဖန်
၉ များပြား ကြလိမ့်မည်။- သူတို့ကို တပါး အမျိုး
သားတို့တွင် မျိုးစေ့ ကဲ့ သို့ ငါ ကြဲ သ ဖြင့်၊ ဝေး
သောပြည်၌ငါ့ကိုအောင်းမေ့၍၊ သားမြေးတို့နှင့်
တကွ အသက်ရှင်လျက် ပြန်လာကြလိမ့်မည်။-
၁၀ သူတို့ကို အဲဂုတ္တု ပြည်မှ တဖန် ငါ ဆောင်ခဲ့ ဦး
မည်။အာရှုရိပြည်မှခေါ်၍ စုဝေးစေမည်။ ဂိလဒ်
ပြည်နှင့် လေဗနုန်ပြည်သို့ တဖန်ငါဆောင်ခဲ့သ
၁၁ ဖြင့်၊ သူတို့ နေစရာတို့ မြေမ လောက် ငြိုင်း- ပင်
လယ်အလယ်၌ရှောက်သွား၍ လှည်းဆဲလျက်၊
ပင်လယ် တံပိုးများကို ငါ၏ ခတ်တော် မူမည်။
မြစ်၌ နက်နဲသော အရပ် ရှိသမျှ တို့လည်း ခန်း
ခြောက်ကြလိမ့်မည်။အာရှုရိပြည်၏မာနကိုနှိမ့်
ချ၍၊ အဲဂုတ္တုမင်း၏အာဏာသည်လည်းကွယ်
၁၂ ပျောက်လိမ့်မည်။-သူတို့ကိုထာဝရဘုရားအား
ဖြင့်ငါခိုင်ခံ့စေမည်။ နာမတော်ကို အမှီပြုလျက်
လှည့်လည်၍ သွား ကြ လိမ့် မည်ဟု၊ ထာဝရ
ဘုရားမိန့်တော်မူ၏။

၁၁

၁ အို လေဗနုန်တောင်၊ သင်၏ အာရဇ်ပင်တို့
ကို မီးလောင်စေခြင်းငှါ သင်၏တံခါးတို့ကို ဖွင့်
၂ လော့။- အို ထင်းရှူးပင်၊ အာရဇ်ပင် လဲသော
ကြောင့် မြည် တမ်းလော့။ မြတ်သော အပင်တို့
သည်ဖျက်စီးကြပြီ။အိုဗာရှန်သပိတ်ပင်တို့၊ ခိုင်
ခံ့သော တောကို ခုတ်လှည်းသောကြောင့် မြည်
၃ တမ်းကြလော့။-သိုးထိန်းတို့သည် မိမိတို့အသ
ရေပျက်သောကြောင့်၊မြည်တမ်းသောအသံကို
ပြုကြ၏။ယော်ဒန်မြစ်၏ ဂုဏ်အသရေပျက်သော
ကြောင့်၊ ခြင်္သေ့ပျို့ဟောက်သောအသံကိုကြား
၄ ရ၏။- ငါ၏ဘုရားသခင်ထာဝရဘုရားမိန့်တော်
မူသည်ကား၊ သတ်ဖို့ရာ ထားသော ဤသိုးစုကို
၅ ကျွေးမွေးလော့။- ပိုင်သောသူတို့သည် သတ်၍
ကိုယ်အပြစ်ရှိသည်ကိုမသိကြ။ရောင်းစားသော
သူတို့ကလည်း၊ ငါရတတ်သည် ဖြစ်၍ ထာဝရ
ဘုရားသည်မင်္ဂလာရှိတော်မူစေသတည်းဟုဆို
ကြ၏။ သိုးထိန်းတို့သည်လည်းသနားခြင်းကရု
၆ ဏာမရှိကြ။- ထာဝရဘုရား မိန့်တော် မူသည်
ကား၊ငါသည်ပြည်သူပြည်သားတို့ကိုနောက်တ

စနိမ်သနား၊ စနှစ်ခြောတဲ၊ လူအသီးအသီးတို့ကို
အိမ်နီးချင်း လက်သို့၎င်း၊ ရှင်ဘုရင်လက်သို့ ၎င်း
အပ်သဖြင့်၊ သူတို့သည် တပြည်လုံးကိုနှိပ်စက်
ကြလိမ့်မည်၊ သူတို့လက်မှ ငါမကယ်မွှတ်ဘဲ
နေမည်ဟုမိန့်တော်မူ၏။
၇ ထိုသို့ သတ်ဖို့ရာ ထားသော သိုးစုတည်း၊ ထူ
သော၊ ဆင်းရဲသော သိုးတို့ကိုငါ ကျွေးမွေးရ၏။
သိုးထိန်းတောင်ဝေး နှစ်စင်းကိုယူ၍၊ တစင်းကို
ကျေးဇူးဟူ၍၎င်၊ တစင်းကို အနှောင်အဖွဲ့ဟူ၍
၈ ၎င်ခေါ်ဝေါ်လျက်၊ သိုးစုကို ကျွေးမွေး၏။- သိုး
ထိန်းသုံးယောက်ကိုလည်း တလထွင် ငါပယ်
ဖြတ်၏၊ သူတို့ ကြောင့် ငါစိတ် ညီး ငွေ့၏၊ သူတို့
၉ သည်လည်း ငါ့ကို ရွံရှာကြ၏။- နောက်တဖန်သင်
တို့ကိုငါမကျွေး၊ သေသောအကောင်သည် သေ
ပါစေ၊ အသတ်ခံရမည်သော အကောင်သည်ခံ
ရပါစေ၊ ကျန်ကြွင်းသောအကောင်တို့သည်
တကောင်ကို တကောင် စား ပါစေဟု ငါဆို
၁၀ လျက်၊- ခပ်သိမ်းသော လူမျိုးတို့နှင့် အရင်ဖွဲ့
သောပဋိညာဉ်ကိုဖျက်ထို့၍၊ ကျေးဇူးအမည်ရှိ
၁၁ သောငါ၏တောင်ဝေး ကို ယူ၍ ချိုး၏။- ထိုပဋိ
ညာဉ်သည်ထိုနေ့၌ ပျက်သောကြောင့်၊ ငါ့ကိုစောင့်
မြှော်သော သိုး ဆင်းရဲ တို့သည် ထာဝရ ဘုရား၏
၁၂ နှုတ်ကပတ်တော်ကိုနားလည်ကြ၏။- တခါငါ
က၊ ငါရထိုက်သောအခကိုပေးထိုက်သော၌၊ သင်
တို့သည် အထိုက်ရှိလျှင် ပေးကြလော့၊ အထိုက်မရှိ
လျှင် မပေးကြနှင့်ဟုဆိုသော်၊ သူတို့သည်ငါ့အား
အခ ပေးထိုက်သော၌ ငွေသုံးဆယ်ကို ချိန်ကြ၏။-
၁၃ ထာဝရဘုရားကလည်း၊ ထိုငွေကိုအိုးထိန်းသမား
ရှေ့မှာပြစ်ချလော့၊ ငါ့ကို အဘိုးဖြတ်၍ ငွေ များ
စွာသည်တကား ဟုမိန့်တော်မူသည်အတိုင်း၊ ထို
ငွေသုံးဆယ်ကို ငါယူ၍ ထာဝရ ဘုရား၏ ဗိမ်
၁၄ မာန်တော်၌ အိုးထိန်းသမား ရှေ့မှာပြစ်ချ၏။- ထို
အခါ ယုဒအမျိုးနှင့် ဣသရေလ အမျိုး ဖွဲ့သော
မိဿဟာယကိုဖျက်ထို့၍၊ အနှောင်အဖွဲ့အမည်
ရှိသောအခြားတောင်ဝေးကိုငါ ချိုး၏။
၁၅ တဖန်ထာဝရဘုရားက၊ မိုက်သော သိုးထိန်း
၁၆ ၏တန်ဆာတို့ကို သိမ်းယူလော့၊- အကြောင်းမူ
ကား၊ ဤပြည်၌ သိုးထိန်းတဦးကို ငါပေါ်ထွန်း
စေမည်၊ သူသည်အသတ်ခံရသောအကောင်ကို
မကြည့်မရှု၊ ထပ်းထွဲသော အကောင်ကို မရှာ၊
နာသောအကောင်ကိုအနာပျောက်စေခြင်းငှါ မ
ပြု၊ ရပ်နေ သောအကောင်ကို မမစ၊ ဆူသော အ
ကောင်တို့ကို စားလိမ့်မည်၊ ထိုတို့ခွာကို ထည်း
၁၇ ရိုးမဲ့လိမ့်မည်။- သိုးစုကို စွန့်ပြစ်သော အရူး
နှိုးသိုးထိန်းသည် အမင်္ဂလာရှိစေသတည်း။ ထို
၏လက်ရုံးနှင့်လက်ျာဖက်မျက်စိ၌ ထားဘေးရောက်
လိမ့်မည်၊ လက်ရုံးသည် အကုန် အစင် ခြောက်
ကပ်လိမ့်မည်၊ လက်ျာဖက်မျက်စိသည် အကုန်အစင်
မိုက်လိမ့်မည်ဟု မိန့်တော်မူ၏။

၁၂

၁ ထာဝရ ဘုရား၏ ဗျာဒိတ် နှုတ်ကပတ် တော်
တည်းဟူသော၊ မိုဃ်း ကောင်းကင်ကို ဖြန့်၍
မြေကြီးတိုက်မြစ်ကိုချတော်မူသော၊ လူအထဲ
၌လူ၏ဝိညာဉ်ကိုဖန်ဆင်းတော်မူသော ထာဝရ
ဘုရားသည် ဣသရေလအမျိုးကိုရည်မှတ်၍ မိန့်
၂ တော်မူသည်ကား၊- ငါသည် ယေရုရှလင်မြို့ကို
ပတ်လည်၌ရှိသောလူမျိုးအပေါင်းတို့အားမူး
ယစ်စေသောဖလားဖြစ်စေမည်၊ ယေရုရှလင်မြို့
ကိုဝိုင်းထားကြစဉ်တွင် ယုဒပြည်ကိုလည်း ထို
၃ အတူဖြစ်စေမည်။- ထိုကာလ ထိုအခါ၌လည်း ထိုမြို့
ကို လူမျိုးအပေါင်းတို့အား လေးသောကျောက်
ဖြစ်စေမည်၊ ထိုကျောက်ကို ရွေ့သောသူအပေါင်း
တို့သည်ကျိုးပဲ့ကြေမွကြလိမ့်မည်၊ မြေကြီးသား
အမျိုးမျိုးတို့သည်ယေရုရှလင်မြို့တစ်ဘက်၌စုဝေး
၄ လျက်ရှိကြလိမ့်မည်။- ထာဝရဘုရား မိန့်တော်
မူသည်ကား၊ ထိုကာလ၌မြင်းစီးသောမြင်းတို့ကို
မိန်းမောတွေဝေ စေခြင်းငှါ၎င်း၊ မြင်းစီး သူရဲအ
ပေါင်းတို့ကို အရူး ဖြစ်စေ ခြင်း ငှါ၎င်း ငါ သည်
ဒဏ်ခတ်မည်၊ ယုဒအမျိုးကိုငါကြည့်ရှု၍၊ အ
ပါးအမျိုးသားတို့၌ရှိသမျှသောမြင်းတို့ကိုမျက်
၅ မိကန်းစေခြင်းငှါ ဒဏ်ခတ်မည်။- ယုဒမင်းတို့
ကလည်း၊ ယေရုရှလင်မြို့သားတို့၏ဘုရားသခင်၊
ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရားအား
ဖြင့် သူတို့သည် ငွန်အားဖြစ်ကြ၏ဟု၊ မိမိတို့စိတ်ထဲ
မှာဆိုကြလိမ့်မည်။- ထိုကာလ၌ငါသည် ယုဒမင်း
တို့ကို ထင်းပုံတွင် မီးမိုက်ကဲ့သို့၎င်း၊ ကောက်လှိုင်း
တွင်မီးစကဲ့သို့၎င်ဖြစ်စေသဖြင့်၊ လက်ျာဘက်၊
လက်ဝဲဘက်၊ ပတ်လည်၌ ရှိသော လူမျိုးအ
ပေါင်းတို့ကို မီးလောင်လိမ့်မည်၊ ယေရုရှလင်
မြို့သည်လည်း၊ မြို့ရာဟောင်း၌တည်မြဲလိမ့်
၇ မည်။- ထာဝရဘုရားသည် ယုဒတဲတို့ကို ရှေ့
ဦးစွာ ကယ်တင်တော်မူမည်၊ ထိုကြောင့်၊ ဒါဝိဒ်
မင်း မျိုး၏ ဘုန်း နှင့် ယေရုရှလင် မြို့သား တို့၏
၈ ဘုန်းသည်ယုဒပြည်တစ်တက်၌မတက်ကြွရ။- ၏

ကာလ၌ ထာဝရ ဘုရား သည် ယေရုရှလင် မြို့
သားတို့ကိုကွယ်ကာစောင့်မတော်မူသဖြင့်၊အား
နည်းသော သူသည်ထိုကာလ၌ ဒါဝိဒ် မင်းကဲ့သို့
ဖြင်၊ဒါဝိဒ်မင်းမျိုးသည်ဘုရားသခင်ကဲ့သို့ဖြင်၊သူ
တို့ရှေ့မှာယာဝရဘုရား၏ကောင်းကင်တမန်ကဲ့
သို့ဖြင် ဖြစ်လိမ့်မည်။
၉ ထိုကာလ၌ယေရုရှလင်မြို့ကိုတိုက်ထသော
လူမျိုး အပေါင်းတို့ကို ဖျက်ဆီးခြင်းငှါ ငါ သည်
၁၀ အားထုတ်မည်။– ကျေးဇူးတော်ကို ခံသော သ
ဘော၊ ဆု တောင်း ပဌနာ ပြု သော သဘော ကို
ဒါဝိဒ်မင်းမျိုး၊ ယေရုရှလင်မြို့သားတို့ အပေါ်သို့
ငါသွန်းလောင်း သဖြင့်၊ သူတို့ သည် မိမိ တို့ထိုး
ဖောက် သော ငါကို ရှု မြင်ရ ကြ လိမ့် မည်။ တ
ယောက်တည်းသော သားအတွက် အဖ သည်ငို
ကြွေးမြည်တမ်းသကဲ့သို့၊ ထိုသူအတွက်ငိုကြွေး
မြည်တမ်းရကြလိမ့်မည်။သားဦးအတွက်အဖ
သည် နာကြင်သကဲ့သို့ နာကြင်ရကြလိမ့်မည်။–
၁၁ မေဂိဒ္ဒေါ်ချိုင့်တွင်ဟာဒရိမ္မုန်မြို့မှာငိုကြွေးမြည်
တမ်းသကဲ့သို့၊ ထို ကာလ၌ ယေရု ရှလင် မြို့မှာ
ကြီးစွာသောငိုကြွေးမြည်တမ်းခြင်းရှိလိမ့်မည်။–
၁၂ တပြည်လုံး အမျိုးအ နွယ် အသီးအသီး တမျိုး
တခြားစီ ငိုကြွေးမြည်တမ်းကြလိမ့်မည်။ ဒါဝိဒ်
မင်း၏ အဆွေ အမျိုး တခြား၊ သူတို့ မိန္မများတ
ခြား၊ နာသန်၏ အဆွေအမျိုးတခြား၊ သူတို့မိန္မ
၁၃ များတခြား၊– လေဝိ၏အဆွေအမျိုးတခြား၊ သူ
တို့မိန္မများတခြား၊ရှိမိ၏အဆွေအမျိုးတခြား၊သူ
၁၄ တို့မိန္မများတခြား၊– ကျန်ကြွင်းသော အဆွေအ
မျိုးအပေါင်းတို့သည်တမျိုးတခြားစီ၊ သူတို့မိန္မ
များတစု တခြားစီ ငိုကြွေးမြည် တမ်း ကြလိမ့်
မည်။

၁၃

၁ ထိုကာလ၌ ဒါဝိဒ်မင်းမျိုးနှင့် ယေရု ရှလင်မြို့
သား တို့၏ ဒုစရိုက် အပြစ် အညစ် အ ကြေး ကို
ဆေးကြောစရာဘို့စမ်းရေတွင်းသည် ပွင့်လျက်
၂ ရှိလိမ့်မည်။– ကောင်းကင်ဗိုလ်ခြေ အရှင် ထာ
ဝရဘုရား မိန့် တော် မူသည် ကား၊ ပြည် တော်
တွင်ရှိသောရုပ်တုတို့၏နာမများကိုနောက်တဖန်
အဘယ်သူမျှ မမှတ်မိစေခြင်းငှါ၊ ထိုကာလ၌ငါ
သုတ်သင်ပယ်ရှင်းမည်။ပရောဖက်လုပ်သောသူ
တို့ကိုဖြင်၊ညစ်ညူးသောဝိညာဉ်ကိုဖြင်ပြည်တော်
၃ မှနှင်ထုတ်မည်။– လူတစုံတယောက်သည်ပရော
ဖက်ပြုသေးလျှင်၊ ဖွားမြင်သောမိဘတို့က၊သင်
သည် ထာဝရဘုရား ၏ နာမကို အမှီပြု၍ မုသာ
စကားကိုဟောပြောသောကြောင့်အသေခံရမည်
ဟုဆိုလျက်၊ ပရောဖက်ပြုစဉ်ပင်ကိုယ်မိဘတို့
သည် သူကိုထုတ်ချင်းခပ်ထိုးကြလိမ့်မည်။– ထို
ကာလ၌ပရောဖက်သည် ဟောပြောသောအခါ
မိမိမြင်သောရူပါရုံကြောင့်ရှက်လိမ့်မည်။ သူတ
ပါးကိုလှည့်စားမည်အကြံနှင့် ကြမ်းတမ်းသော
၅ အဝတ်ကိုလည်းမဝတ်ရ၊– အကျွန်ုပ်သည်ပရော
ဖက်မဟုတ်၊ လယ်လုပ်သောသူဖြစ်ပါ၏။ ငယ်
သောအ ရွယ်မှစ၍ သူတပါး၌ ကျွန်ခံရပါပြီဟု
၆ ဝန်ခံလိမ့်မည်။–သူတပါးကလည်း၊သင့်လက်၌
ပေါ်သောဒါဏ်ရာကား အဘယ်သို့နည်းဟုမေး
လျှင်၊ ဤဒါဏ်ရာကား၊ အကျွန်ုပ်၏ အဆွေ ခင်
ပွန်းအိမ်၌ ခံရသောဒါဏ်ရာဖြစ်ပါသည်ဟုပြန်
ပြောလိမ့်မည်။
၇ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်
တော်မူသည်ကား၊ အိုထား၊ ငါ၏ သိုးထိန်း၊ တ
ဖက်၊ ငါ၏အပေါင်းအဖော်ဖြစ်သောသူ တဖက်
၌နိုးလော့။ သိုးထိန်းကို ခုတ်သတ်လော့။ သို့ပြု
လျှင်၊ သိုးတို့သည် ကွဲလွင့်ရကြလိမ့်မည်။ သိုး
သငယ် တို့အပေါ်၌လည်း ငါသည် လက်ကို
၈ တင်ဦးမည်။– ထာဝရဘုရား မိန့် တော်မူသည်
ကား၊ တပြည်လုံး သုံးစုတွင်နှစ်စုကို ပယ်ဖြတ်
၍ အသေခံရသဖြင့်၊ တစုသာကျန်ကြွင်းရလိမ့်
၉ မည်။– ထိုတစုကိုမီးအထဲသို့ ငါရှောက်သွား
စေမည်။ ငွေကိုချွတ်သကဲ့သို့ချွတ်မည်။ ရွှေကိုစုံ
စမ်းသကဲ့သို့ စုံစမ်းမည်။ သူတို့သည် ငါ့နာမကို
ပဌနာပြု၍ ငါနားထောင်မည်။ သူတို့ကိုငါ၏လူ
မျိုးဟူ၍ငါခေါ်ဝေါ်မည်။ သူတို့ကလည်း၊ထာဝရ
ဘုရားသည် ငါတို့၏ ဘုရား သခင် ဖြစ်တော်မူ၏
ဟုဝန်ခံကြလိမ့်မည်။

၁၄

၁ ထာဝရဘုရား၏ နေ့ရက်သည် ရောက်သော
အခါ၊ သူတပါးတို့သည်သင်၏ ဥစ္စာကို လုယူ၍
၂ သင့် အ ထယ်၌ ဝေဖန် ကြလိမ့် မည်။– ယေရု
ရှလင်မြို့ကို တိုက်စေခြင်းငှါ၊လူမျိုးအပေါင်းတို့
ကိုငါစုဝေးစေမည်။မြို့ကိုတိုက်ယူပြီးလျှင်၊အိမ်
တို့ကို လုရက်၍ မိန္မတို့ကိုအဓမ္မ ပြုကြလိမ့်မည်။
မြို့သားတဝက်ကိုသိမ်းသွား၍ တဝက်သာမြို့၌
ကျန်ကြွင်းလိမ့်မည်။
၃ ထာဝရဘုရား သည်လည်း စစ်တိုက်ရာကာ
လ၌ တိုက်သကဲ့သို့၊ထိုလူမျိုးတို့ကို တိုက်သွား

၄ တော်မူမည်။ ထိုနေ့ရက်၌ခြေတော်သည်ယေရှု
ရှလင်မြို့အရှေ့၊ သံလွင်တောင်ပေါ်မှာရပ်၍၊ သံ
လွင်တောင်သည် အရှေ့ထက်မှ အနောက်ထက်
တိုင်အောင် အလယ်၌ ကွဲသဖြင့်၊ အလွန်ကြီး
သော ချိုင့်ဖြစ်လိမ့်မည်။ တောင်တဝက်သည်
မြောက်ထက်သို့ရစ်၊ တဝက်သည် တောင်ထက်
၅ သို့ရစ် ရွေ့ရလိမ့်မည်။ ထင်တို့သည် တောင်
ကြား ချိုင့်လမ်း၊ ဖြင့် ပြေးကြလိမ့်မည်။ ထို ချိုင့်
သည် အာဇလမြို့တိုင်အောင် မှီလိမ့်မည်။ ယုဒ
ရှင်ဘုရင် ဩဇိမင်းလက်ထက်၊ မြေကြီးလှုပ်၍
သင်တို့ သည် ပြေးသကဲ့သို့ တဖန် ပြေးကြ လိမ့်
မည်။ ငါ၏ဘုရားသခင် ထာဝရဘုရား ကြွလာ
တော်မူ၍၊ မိမိသန့်ရှင်းသူအပေါင်းတို့သည် ပါ
၆ ကြလိမ့်မည်။ ထိုနေ့ရက်၌ အလင်းမရှိ၊ ကြယ်
၇ သောအရာတို့သည်ယုတ်လျော့လိမ့်မည်။ နေ့
မယုတ်၊ ညည့်မယုတ်၊ ထာဝရဘုရား သိတော်မူ
သော နေ့ ရက် တ ရက် ဖြစ် ၍၊ ညဦး ယံ အချိန်
၈ ရောက်မှ လင်းလိမ့်မည်။ ထိုနေ့ရက်၌ အသက်
ရေသည် ယေရှုရှလင်မြို့မှထွက်၍၊ ရှေ့ကာလဖြစ်
စေ၊ ဆောင်းကာလဖြစ်စေ၊ အရှေ့ပင်လယ်သို့တ
ဝက်၊ အနောက်ပင်လယ်သို့တဝက်စီးသွားလိမ့်
၉ မည်။ ထာဝရဘုရားသည်တပြည်လုံးတွင်ရှင်
ဘုရင် ဖြစ်တော်မူမည်။ ထိုနေ့ရက် ၌ ထာဝရ
ဘုရားတပါးတည်း၊ နာမတော်တပါးတည်းဖြစ်
၁၀ တော်မူမည်။ ဂေဗ မြို့မှသည် ယေရှု ရှလင်မြို့
တောင်ထက်၊ ရိမ္မုန်မြို့တိုင်အောင် တပြည်လုံး
ကို ချိုင့်ကဲ့သို့ တညီတည်း ဖြစ်စေတော်မူမည်။
မြို့သည်ထည်း၊ ဗင်္ယာမိန်တံခါးမှသည်အရင်တံ
ခါးရာ၊ မြို့ထောင့်တံခါး၊ တိုင်အောင်၎င်း၊ ဟာနနေ
လရဲ တိုက်မှသည် စပျစ်သီးနယ်ရာတန်ဆာတော်
တိုင်အောင်၎င်း မြို့မြောက်ခြင်းကိုခံ၍၊ မြို့ဟောင်း
၁၁ ရာ၌တဖန်တည်ရလိမ့်မည်။ နောက်တဖန်ယေ
ရှုရှလင်မြို့သည်ကျိန်ခြင်းဘေးကိုမခံ၊ မြို့သား
တို့သည်နေရာကျ၍ မိုးရိပ်စရာမရှိဘဲနေကြလိမ့်
မည်။
၁၂ ယေရှု ရှလင်မြို့ ကိုတိုက်လာ သော လူမျိုးအ
ပေါင်းတို့၌ထာဝရဘုရားပေးတော်မူသောဘေး
ဒဏ်ဟူမူကား၊ ခြေဖြင့်ရပ်လျက်ပင် သူတို့အ
သားဆွေးပုပ်လိမ့်မည်။ မျက်အိမ်၌ မျက်လုံး
ဆွေးပုပ်လိမ့်မည်။ လျှာ သည်လည်း ခံတွင်း
၁၃ ၌ ဆွေးပုပ်လိမ့်မည်။ ထိုနေ့ရက်၌ ထာဝရ
ဘုရား၏တန်ခိုးတော်ကြောင့်သူတို့အစဉ် အလွန်
ရုန်းရင်းခတ်မှုပြု၍၊ တယောက်ကို တယောက်
ထက်ချင်းဖိုက်တော် ထည်း၊ တယောက်ကို တ
၁၄ ယောက်တိုက်၍ထက်ကြလိမ့်မည်။ ယုဒအမျိုး
သားတို့ထည်း၊ ယေရှုရှလင်မြို့၌ တိုက်ကြလိမ့်
မည်။ ပတ်လည်၌ နေသောတပါးအမျိုးသားအ
ပေါင်းတို့၏ ဥစ္စာ၊ ရွှေ၊ ငွေ၊ အဝတ်တန်ဆာ၊ များ
စွာသော ရွှေငွေ အဝတ်တန်ဆာ စုဝိုလျက် ရှိကြ
၁၅ လိမ့်မည်။ မြင်း၊ လား၊ ကုလားအုတ်၊ မြည်းမှစ၍
ရန်သူတပ်တွင် ရှိသမျှသော တိရစ္ဆာန်တို့၌ပေး
သော ဘေးဒဏ်သည်၊ အထက်ဆိုခဲ့ပြီး သော
ဘေးဒဏ် နှင့်တူလိမ့်မည်။
၁၆ ယေရှုရှလင်မြို့ကို တိုက်လာ သော လူမျိုး အ
ပေါင်းတို့တွင်ကျန်ကြွင်းသမျှသောသူတို့သည်၊
ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရဘုရားတဆူ
တည်းသောရှင်ဘုရင်ကိုကိုးကွယ်၍၊ သကေနေ့ပွဲခံ
အံ့ သောငှါ မြို့ တော် သို့ နှစ်တိုင်း အ စဉ် တက်
၁၇ လာကြလိမ့်မည်။ ကောင်းကင်ဗိုလ်ခြေ အရှင်
ထာဝရဘုရားဟူသောရှင်ဘုရင်ကိုကိုးကွယ်အံ့
သောငှါ၊ မြို့တော်သို့တက်၍ မလာသောမြေကြီး
သား အဆွေအမျိုးရှိသမျှအပေါ်သို့ မိုဃ်း မရွာ
၁၈ ရ။ အဲဂုတ္တု ပြည်သား အဆွေ အမျိုးသည် မ
တက် မလာလျှင်၊ မိုဃ်းမရွာဘဲ နေသဖြင့်၊ သ
ကေနေ့ပွဲကို ခံအံ့သောငှါတက်၍ မလာသောလူ
မျိုးတို့၌၊ ထာဝရ ဘုရား ပေးတော်မူသော ဘေး
၁၉ ဒဏ်သည် ထိုသူတို့ကိုလည်းထိလိမ့်မည်။ ဤ
ရှေ့ကား၊ သကေနေ့ပွဲကိုခံအံ့သောငှါ တက်၍မ
လာသော အဲဂုတ္တု အမျိုး သား၊ တပါးအမျိုး
သားအပေါင်းတို့ခံရသောအပြစ်ပေတည်း။
၂၀ ထို နေ့ရက် ကာ လ တွင် ထာဝရ ဘုရား အား
သန့်ရှင်းခြင်း၊ ဟု၊ မြင်း၌ဆွဲသောဆည်းလည်းအ
ပေါ်မှာပင် အက္ခရာ တင်ရလိမ့် မည်။ ထာ ဝရ
ဘုရား၏အိမ်တော်၌အိုးတို့သည်ယဇ်ပလ္လင်ရှေ့
၂၁ မှာရှိသောဖလားကဲ့သို့ဖြစ်ကြလိမ့်မည်။ ထိုမျှ
မက၊ ယေရှုရှလင်မြို့မှစ၍ ယုဒပြည် ၌ ရှိသမျှ
သော အိုးတို့သည် ကောင်းကင် ဗိုလ်ခြေ အရှင်
ထာဝရဘုရားအားသန့်ရှင်းကြလိမ့်မည်။ ယဇ်
ပူဇော်သောသူအပေါင်းတို့သည်လာ၍၊ ထိုအိုး
တို့ကိုယူပြီးလျှင် ချက်ပြုတ်ကြလိမ့်မည်။ ထိုနေ့
မှစ၍ နောက်တဖန် ကောင်းကင် ဗိုလ်ခြေ အရှင်
ထာဝရဘုရား၏အိမ်တော်၌ခါနာနိလူမရှိရ။

ပရောဖက်ဇာခရိစီရင်ရေးထားသောအနာဂတ္တိကျမ်း၊ ပြီး၏။

# မာလခိအနာဂတ္တိကျမ်း
# MALACHI.

၁

၁ ထာဝရဘုရားသည် မာလခိ ထက်တွင် ဣသ
ရေလ အမျိုးသို့ ပေးလိုက်တော်မူသော ဗျာဒိတ်
၂ ရွှတ်ကပတ်တော်တဦးဟူသော၊-ထာဝရဘုရား
မိန့်တော်မူသော စကားဟူမူကား၊ သင်တို့ကိုငါ
ချစ်ထေပြီ၊ အကျွန်ုပ်တို့ကိုအဘယ်သို့ချစ်တော်
မူသနည်းဟု သင်တို့မေးကြလျှင်၊ ဧသောသည်
ယာကုပ်၏ အစ်ကို ဖြစ် သည် မဟုတ် လော၊ သို့
၃ သော်လည်း ယာကုပ်ကိုငါချစ်၏၊- ဧသောကိုငါ
မုန်း၍ သူနေသော တောင်တို့ကို လွင်ပြင် ဖြစ်စေ
ပြီ၊ သူ့အမွေခံရာမြေကိုမြေခွေးတို့၌ အပ်ထေပြီ
၄ ထူ၊ ထာဝရဘုရားမိန့်တော်မူ၏၊-ဧဒုံအမျိုးသား
တို့က၊ ငါတို့သည်ပျက်စီးသော်လည်း၊ ပျက်စီး
သော အရပ်တို့ကို တဖန် တည်ဆောက် ဦးမည်
ဟု ဆိုရာတွင်၊ ကောင်းကင် ဗိုလ်ခြေ အရှင်ထာ
ဝရ ဘုရား မိန့် တော်မူသည်ကား၊ သူတို့ သည်
တည်ဆောက်သော်လည်း ငါ ဖြိုဖျက်မည်၊ သူ
တို့ကိုဒုစရိုက်ပြည်သား၊ ထာဝရဘုရား အစဉ်
အမျက်ထွက်တော်မူသောလူမျိုးဟူ၍ သမုတ်
၅ ကြလိမ့်မည်၊-ထိုအမှုကိုသင်တို့သည်မြင်သော
အခါ၊ ထာဝရ ဘုရားသည် ဣသရေလပြည်၏
မြင်မှာ ဘုန်းတန်ခိုးကြီးတော်မူသည်ဟု ဆိုကြ
လိမ့်မည်၊
၆ သားသည် အဘကိုရိုသေတတ်၏၊ ကျွန်သည်
သခင်ကို ကြောက်ရွံ့တတ်၏၊ ငါသည် အဘမှန်
လျှင်၊ ငါ့ကိုအဘယ်သူရိုသေသနည်း၊ သခင်မှန်
လျှင်၊ အဘယ်သူကြောက်ရွံ့သနည်းဟု၊ ကောင်း
ကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား သည် နာမ
တော်ကို မထီမဲ့မြင်ပြုသော ယဇ်ပုရောဟိတ်တို့
အားမေးတော်မူ၏၊ အကျွန်ုပ်တို့သည် နာမတော်
ကိုအဘယ်သို့မထီမဲ့မြင်ပြုပါသနည်းဟု သင်တို့
၇ မေးရာတွင်၊- ညစ်ညူးသော အစာကို ငါ့ယဇ်
ပလ္လင်သို့ ဆောင်ခဲ့ကြသည် ကား၊ အကျွန်ုပ်
တို့သည် ကိုယ်တော်ကိုအဘယ်သို့ ရွတ်ချပါသ
နည်းဟုမေးရာတွင်၊ ထာဝရဘုရား၏စားပွဲသည်
ယုတ်မာ၏ဟုဆိုသောကြောင့်ကို ရွတ်ချကြပြီ။-
မျက်စိကန်းသောအကောင်ကိုယဇ်ပူဇော်လျှင်
အပြစ်ရှိသည် မ ယုတ် လော၊ ခြေဆွံ့ သော အ
ကောင် နှင့် နာ သော အကောင်ကို ယဇ် ပူဇော်
လျှင်အပြစ်ရှိသည်မဟုတ်လော၊ မြို့ဝန်မင်းအား
ဆက် ပါ လော့၊ မင်း၏ စိတ် နှင့် တွေ့ လိမ့် မည်
လော၊ သင့်မျက်နှာကို ထောက် လိမ့်မည်လော
ထု၊ ကောင်းကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား
၉ မိန့်တော်မူ၏၊- ယခုမှာဘုရားသခင်သည်ငါတို့
ကို ကယ်မသနား၊ တော်မူမည် အကြောင်း၊ ထာ
ဝရ ဘုရား ရှေ့တော်၌ ဆုတောင်း ကြပါ လော့၊
သင်တို့ ထက်ခံသောကြောင့် ဤသို့ပြုတတ်ကြ၏၊
သင် တို့ မျက် နှာ ကို ထောက်ရ မည် လော ဟု၊
ကောင်းကင် ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့်
၁၀ တော်မူ၏၊-သင်တို့တွင်အဘယ်သူသည်တံခါး
တို့ကိုပိတ်လိမ့်မည်နည်း၊ သင်တို့သည် ငါ့ယဇ်
ပလ္လင်ပေါ်မှာ မီးကိုအချည်းနှီးမညှိရကြ၊ သင်
တို့ကိုငါအလိုမရှိ၊ သင်တို့ပြုသောပူဇော်သက္ကာ
ကို ငါလက်မခံဟု၊ ကောင်းကင် ဗိုလ်ခြေအရှင်
ထာဝရဘုရားမိန့်တော်မူ၏၊
၁၁ နေထွက်ရာအရပ်မှသည်နေဝင်ရာအရပ်တိုင်
အောင်တပါးအမျိုးသားတို့တွင် ငါ၏နာမတော်
သည် ကြီးမြတ်ရလိမ့်မည်၊ ခပ်သိမ်းသော အ
ရပ်တို့၌ နံ့သာပေါင်းကို ငါ၏နာမတော်အားမီး
ရှို့၍၊ သန့်ရှင်းသောပူဇော်သက္ကာကိုဆက်ကပ်ရ
ကြလိမ့်မည်၊ ငါ၏နာမတော်သည်တပါးအမျိုး
သားတို့တွင် ကြီးမြတ်ရလိမ့်မည်ဟု၊ ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏၊-
၁၂ သင်တို့က၊ ထာဝရဘုရား၏ စားပွဲတော်သည်
ညစ်ညူး၏၊ တင်ထားသောအစာသည်ပူဇော်သ
က္ကာသည်ယုတ်မာ၏ဟု ဆိုသောကြောင့် စားပွဲ
၁၃ တော်ကို ရွတ်ချကြပြီ၊- တဖန်သင်တို့က၊ အမှု
တော်ကို ဆောင် ရွက်၍ ပင်ပန်းခြင်း အလွန်ရှိ

ဆိုလျက်၊ကဲ့ရဲ့ သံကိုပြုတတ်ကြသည်ဟု၊ကောင်း
ကင်ဗိုလ်ခြေအရှင်ထာဝရဘုရား မိန့်တော်မူ၏။
လုယူသောအကောင်၊ခြေဆွံ့သောအကောင်၊နာ
သောအကောင်ကိုဆောင်ခဲ့ကြပြီ။ ထိုသို့သောပူ
ဇော်သကာကို ဆောင်ခဲ့ကြပြီတကား။ သင်တို့
လက်မှ ငါခံရမည်လောဟု၊ ထာဝရဘုရားမေး
၁၄ တော်မူ၏။- သစ္စာဂတိထားပြီးမှမိမိသိုးစုဌ်အ
ထီးရှိလျက်ပင်လှည့်စား၍၊ ထာဝရဘုရားအခား
ချို့တဲ့သော အကောင်ကို ယဇ်ပူဇော်သော သူ
သည် အမင်္ဂလာ ရှိစေသတည်း။ ငါသည် ကြီး
မြတ်သောရှင်ဘုရင်ဖြစ်၏။ငါ၏နာမတော်သည်
လူအမျိုးမျိုးတို့တွင်ကြောက်မက်ဖွယ်ဖြစ်ရမည်
ဟု၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရား
မိန့်တော်မူ၏။

၂

၁ ဈို ယဇ်ပုရောဟိတ်တို့၊ကောင်းကင်ဗိုလ်ခြေ
အရှင်ထာဝရဘုရားသည်သင်တို့အားမိန့်တော်
၂ မူသော ပညတ်စကား ဟူမူကား၊- ငါ ၏ နာမ
တော်ကို ချီးမွမ်းလိုသော၄ါ သင်တို့သည်နားမ
ထောင်၊နှစ်လုံးမသွင်းဘဲနေလျှင်၊ကျိန်ခြင်းအား
ကိုသင်တို့အပေါ်သို့ ငါလွှတ်လိုက်မည်။ သင်တို့
၏မင်္ဂလာကို အမင်္ဂလာဖြစ်စေမည်။ ထိုမျှမက၊
နှစ်လုံးမသွင်းဘဲနေသောကြောင့် ယခုပင်အမင်္ဂ
၃ လာဖြစ်စေပြီ။- သင်တို့မျိုးစေ့ကို ငါဖျက်မည်။
တိရိစ္ဆာန် ချေးတည်း ဟူသော သင်တို့ ဓမ္မ ပွဲ၏
တိရိစ္ဆာန်ချေးကိုသင်တို့မျက်နှာပေါ်၌ငါကြဲမည်။
သူတပါးတို့သည် သင်တို့ကို ထိုတိရိစ္ဆာန် ချေး
၄ နှင့်အတူယူသွားကြလိမ့်မည်။- ငါ၏ ပဋိညာဉ်
ကို လေဝိ အ မျိုး၌ တည်စေခြင်းငှါ၊ ဤ ပညတ်
စကားကိုသင်တို့ဆီသို့ ငါပေးလိုက်ကြောင်းကို
သင်တို့ သိရကြလိမ့်မည်ဟု၊ ကောင်းကင် ဗိုလ်
၅ ခြေအရှင် ထာဝရ ဘုရား မိန့် တော်မူ၏။- ငါဖွဲ့
သောအသက်ပဋိညာဉ်၊ ငြိမ်ဝပ်ခြင်း ပဋိညာဉ်
သည်ထိုအမျိုး၌ရှိ၏။ ငကိုကြောက်ရွံ့၍ ငါ၏နာ
မတော်ရှေ့၌ထိတ်လန့်သောကြောင့်ငါ ဖွဲ့၍ပေး
၆ ၏။- ထိုအမျိုးသည် သစ္စာတရားစကားကိုပြော
တတ်၏။သူ့နှုတ်၌အပြစ်ကိုရှာ၍မတွေ့။ငြိမ်ဝပ်
ခြင်းတရား၊ ဖြောင့်မတ်ခြင်းတရား အလိုင်း ငါ
နှင့်အတူ သွားလာ၍၊ များစွာသောသူတို့ကိုဒုစ
၇ ရိုက်အပြစ်မှ လွှဲရှောင်စေတတ်၏။- ယဇ်ပုရော
ဟိတ်၏ နှုတ်ခမ်းသည် ပညာကို စောင့်ရမည်။
သူ၏နှုတ်၌ လူတို့သည်တရားတော်ကို ရှာရကြ
မည်။ အကြောင်းမူကား၊ သူသည် ကောင်းကင်
ဗိုလ်ခြေ အရှင် ထာဝရဘုရား စေလွှတ် တော်မူ
၈ သောတမန်ဖြစ်၏။- သင်တို့မူကား၊လမ်းလွှဲကြ
ပြီ။လူများတို့သည် တရားတော်ကိုထိမိ၍လဲစေ
ခြင်းငှါပြုကြပြီ။လေဝိအမျိုးနှင့်ဖွဲ့သောပဋိညာဉ်
ကိုဖျက်ကြပြီဟု၊ကောင်းကင်ဗိုလ်ခြေအရှင်ထာ
၉ ဝရဘုရားမိန့်တော်မူ၏။-သို့ဖြစ်၍၊ သင်တို့သည်
ငလမ်းတို့ကိုမလိုက်၊တရားအမှုတွင်လူမျက်နှာ
ကိုထောက်သောကြောင့်၊ လူခပ်သိမ်းတို့သည်
သင်တို့ကို မထီမဲ့မြင်ပြု၍ ရှုတ်ချစေခြင်းငှါ ငါမ
ရင်မည်။
၁၀ ခပ်သိမ်းသောငါတို့၌ တပါးတည်းသောအဖ
ရှိသည်မဟုတ်လော။ တပါးတည်းသော ဘုရား
သခင်သည် ငါ တို့ကို ဖန်ဆင်း တော် မူသည် မ
ဟုတ်လော။ ဘိုးဘေးတို့နှင့်ဖွဲ့တော်မူသောပဋိ
ညာဉ်ကိုရှုတ်ချ၍၊ ငါတို့သည် အဘယ်ကြောင့်
တ ယောက် ကို တ ယောက် သစ္စာ ဖျက် ကြ သ
၁၁ နည်း။- ယုဒအမျိုးသည်သစ္စာဖျက်၏။ ဣသရေ
လပြည်သူ၊ ယေရုရှလင် မြို့သားတို့သည် ရွံရှာ
ဖွယ်သောအမှုကိုပြုကြ၏။ ယုဒအမျိုးသည်ထာ
ဝရဘုရားချစ်တော်မူသောသန့်ရှင်းခြင်းတရား
တော်ကိုရှုတ်ချ၍၊ တပါးအမျိုးဘုရား၏သမီးနှင့်
၁၂ ထက်ထပ်ပါသည်တကား။-ထိုသို့ပြုသောဆရာ
နှင့် တပည့်ကိုဇင်၊ ကောင်းကင်ဗိုလ်ခြေ အရှင်
ထာဝရ ဘုရား ထံတော်သို့ ပူဇော် သ ကာ ကို
ဆောင်ခဲ့သော သူကိုဇင်၊ ယာကုပ်တဲတို့မှ ပယ်
၁၃ ဖြတ်တော်မူမည်။- တဖန်သင်တို့ ပြုသော အမှု
ဟူမူကား၊ထာဝရဘုရား၏ ယဇ်ပလ္လင်ကိုမျက်
ရည်ကျခြင်း၊ ငိုကြွေးမြည်တမ်းခြင်းနှင့် ဖုံးအုပ်
ကြပြီ။ထိုကြောင့်၊ ပူဇော်သကာကိုမှတ်တော်မ
မူ။သင်တို့လက်မှနှစ်သက်သောစိတ်နှင့် ခံတော်
၁၄ မမူ။-အဘယ်ကြောင့်နည်းဟုသင်တို့မေးလျှင်၊
သင့်အသက်ပျိုစည်အခါ၌ထက်ထပ်၍ နောက်တ
ဖန်သစ္စာမစောင့်၊ ပြစ်မှားသော မယား တဖက်
နှင့်သင့်တဖက်၌ ထာဝရဘုရားသည် သက်သေ
ဖြစ်တော်မူ၏။ ထိုမယားသည်သင်၏အဆွေခင်
ပွန်း၊သင်ဖွဲ့သောပဋိညာဉ်နှင့်ဆိုင်သောမယား
၁၅ ဖြစ်သတည်း။-တဦးတည်းကိုသာဖန်ဆင်းတော်
မူပြီမဟုတ်လော။ သို့သော်လည်း၊ ကိုယ်တော်
၌ ဝိညာဉ် တော် အကျန် အကြွင်း ရှိ၏။ အဘယ်
ကြောင့် တဦးတည်း ကိုသာ ဖန်ဆင်းတော်မူသ
နည်းဟူမူကား၊ ဘုရားသခင်နှင့်ထိုက်တန်သော

အမျိုးကိုရှာ၍ ထိုသို့ဖန်ဆင်းတော်မူ၏။ သို့ဖြစ်
၍၊ကိုယ်စိတ်သဘောကို ချုပ်တည်းကြလော့။
အသက်ပျိုစဉ်အခါ၌ ထက်ထပ်သော မယားကို
၁၆ သစ္စာဖျက်၍ မပြစ်မှားကြနှင့်။– မယားကို စွန့်
ခြင်းအမှု၊ မိမိခင်ဝတ်နုံး၌ ပြစ်မှားသော အပြစ်ကို
ဖုံးအုပ်ခြင်းအမှုကိုငါ ရွံရှာသည်ဟု၊ ဣသရေလ
အမျိုး၏ ဘုရားသခင်၊ ကောင်းကင်ဗိုလ်ခြေ အ
ရှင် ထာဝရ ဘုရား မိန့် တော်မူ၏၊ ထို ကြောင့်၊
ကိုယ် စိတ် သ ဘော ကို ချုပ် တည်း ကြ လော့။
၁၇ သစ္စာကို မဖျက်ကြနှင့်။– သင်တို့သည် ထာဝရ
ဘုရား၏ နားတော်ညီးသည်တိုင်အောင် စကား
များကြ၏၊ နားတော် ညီးသည် တိုင်အောင် အ
ဘယ်သို့ပြုမိသနည်းဟုမေးသော်၊ဒုစရိုက်ကိုပြု
သောသူတိုင်းထာဝရဘုရားရှေ့တော်၌ ကောင်း
၏၊ ထိုသို့သောသူတို့ကို နှစ်သက်တော်မူ၏ဟူ၍
၎င်း၊ စစ်ကြော စီရင် တော် မူ သော ဘုရားသခင်
ကား၊ အဘယ် မှာ ရှိသနည်း ဟူ၍၎င်း ဆိုတတ်
ကြသည်တကား။

## ၃

၁ ကြည့်ရှုလော့၊ငါသွားရာလမ်းကိုပြင်ရသော
ငါ၏တမန်ကို ငါစေလွှတ်မည်၊ သင်တို့ရှာသော
သခင်၊ သင်တို့တောင့်တသော ပဋိညာဉ်တမန်
တော်သည် မိမိ ဗိမာန် တော်သို့ ချက်ချင်း လာ
လိမ့်မည်။ကြည့်ရှုလော့၊ထိုသခင်လာလိမ့်မည်
ဟု၊ ကောင်းကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား
၂ မိန့်တော်မူ၏။– လာတော်မူသောနေ့ရက်ကို အ
ဘယ်သူသည် မတိမ်း မရှောင်ဘဲ နေ လိမ့်မည်
နည်း။ ပေါ်ထွန်းတော်မူသောအခါ အဘယ်သူ
သည်ခံရပ်လိမ့်မည်နည်း။ ထိုသခင်သည်ငွေစစ်
သောသူ၏မီး၊ ခဝါသည်သုံးသောဆပ်ပြာကဲ့သို့
၃ ဖြစ်တော်မူမည်။– ငွေကို ချွတ်၍ သန့်ရှင်း စေ
သောသူကဲ့သို့ထိုင်လျက်၊ ရွှေငွေကိုချွတ်သကဲ့သို့၊
လေဝိသားတို့ကို ချွတ်၍ သန့်ရှင်း စေတော်မူသ
ဖြင့်၊ သူတို့သည်ထာဝရဘုရားအဖို့ဖြစ်၍ဖြောင့်
မတ်ခြင်းပူဇော်သကာကိုပူဇော်ကြလိမ့်မည်။–
၄ ထိုအခါ ယုဒပြည်သူ၊ယေရုရှလင်မြို့သားတို့၏ပူဇော်သ
ကာသည်ရှေးလွန်လေပြီးသောနှစ်၊လ၊နေ့ရက်
ကာလ၌ ဖြစ်သကဲ့သို့၊ ထာဝရဘုရား နှစ်သက်
၅ တော်မူဖွယ်ဖြစ်လိမ့်မည်။– သင်တို့ကိုစစ်ကြော
စီရင်ခြင်းငှါငါချဉ်းမည်၊ ပြုစားတတ်သောသူ၊
သူ့မယားကိုပြစ်မှားသောသူ၊ မမှန်သောကျိန်
ဆိုခြင်းကိုပြုသောသူ၊သူ့ငှါးကိုအခမပေး၊ညှဉ်း
ဆဲသောသူ၊ မိဘမရှိသောသူငယ်နှင့်မုဆိုးမကို
ညှဉ်းဆဲသောသူ၊ ဧည့်သည်ကိုမတရားသဖြင့်
စီရင်သောသူ၊ ငါ့ကို မကြောက်ရွံ့သော သူတို့တ
ဖက်၌ ငါသည်လျင်မြန်သောသက်သေဖြစ်မည်
ဟု၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ ဘုရား
၆ မိန့်တော်မူ၏။– ငါသည် ထာဝရ ဘုရား ဖြစ် ၏၊
ပြောင်းလဲခြင်းမရှိ၊ ထိုကြောင့်၊ ယာကုပ် အမျိုး
သားတို့၊ သင်တို့သည် ဆုံးရှုံးခြင်းသို့ မရောက်
ကြ။
၇ ဘိုးဘေးတို့လက်ထက်မှစ၍ သင်တို့သည်ငါ
စီရင် ထုံးဖွဲ့ချက်တို့ကို မစောင့်၊ တိမ်းရှောင်ကြ
ပြီ။ငါထံသို့ပြန်လာကြလော့၊ငါသည်လည်းသင်
တို့ ဆီသို့ ပြန်လာမည်ဟု၊ ကောင်းကင်ဗိုလ်ခြေ
အရှင်ထာဝရဘုရား မိန့်တော်မူ၏၊ အကျွန်ုပ်တို့
သည် အဘယ်သို့ပြန်လာရပါမည်နည်းဟု သင်
၈ တို့မေးကြသည်တကား။– လူသည် ဘုရားသခင်
၏ ဥစ္စာ တော်ကို လုယူ ရမည် လော၊ သို့ သော်
လည်း၊ သင်တို့သည်ငါ့ဥစ္စာကို လုယူကြပြီ၊ အ
ကျွန်ုပ် တို့သည် အဘယ်သို့ လုယူပါသနည်း ဟု
သင်တို့မေးလျှင်၊ ဆယ်ဖို့တဖို့ကို၎င်း၊ ပူဇော်သ
၉ ကာ တို့ကို၎င် လုယူကြပြီ။– သင်တို့သည် ကျိန်
ခြင်းအမင်္ဂလာကို ခံရကြ၏။အကြောင်းမူကား၊
ပြည်သူ ပြည်သားအပေါင်း တို့သည် ငါ့ဥစ္စာ ကို
၁၀ လုယူ ကြပြီ။– ဆယ်ဖို့ တဖို့ ရှိသမျှ ကို ဘဏ္ဍာ
တိုက်ထဲသို့သွင်း၍၊ ငါ့အိမ်တော်၌ စားစရာရှိစေ
ခြင်းငှါပြုကြလော့။ငါသည်မိုဃ်းကောင်းကင်ပြ
တင်းပေါက်တို့ကိုဖွင့်၍ကောင်းကြီးမင်္ဂလာကို
အကုန်အစင်သွန်းလောင်းမည်၊မသွန်းလောင်း
မည်ကို ထိုသို့ စုံစမ်း ကြလော့ဟု၊ ကောင်း ကင်
ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့် တော် မူ၏။–
၁၁ ကိုက်စား တတ် သော အ ကောင် ကို သင်တို့ အ
တွက် ငါဆုံးမ၍၊ သင်တို့၏ မြေ အသီး အနှံ ကို မ
ဖျက်ဆီးရ။သင်တို့၏စပျစ်ဥယျာဉ်သည်အသီးမ
သီးဘဲမနေရဟု၊ကောင်းကင် ဗိုလ်ခြေအရှင်ထာ
၁၂ ဝရ ဘုရား မိန့်တော်မူ၏။– လူမျိုး အပေါင်းတို့
သည်သင်တို့ကိုမင်္ဂလာရှိသောသူဟူ၍ ခေါ်ဝေါ်
ကြလိမ့်မည်။သင်တို့ပြည်သည်လည်းနှစ်သက်
ဖွယ်ကောင်းသော ပြည်ဖြစ် လိမ့်မည်ဟု၊ ကောင်း ကင်
ဗိုလ်ခြေအရှင်ထာဝရဘုရားမိန့်တော်မူ၏။
၁၃ သင်တို့သည် ငါ့တဘက်၌ ရဲရင့်စွာပြောကြပြီ
ဟု၊ ထာဝရဘုရား မိန့်တော်မူ၏၊ သို့ရာတွင်၊ အ
ကျွန်ုပ် တို့သည် ကိုယ်တော် တဘက်၌ အဘယ်

ထို့ပြောမိပါသနည်းဟု သင်တို့ မေးကြသည့် တ
၁၄ ကား။- ထာဝရ ဘုရား၏ အမှုကို ဆောင် ရွက်
သော်လည်း၊အကျိုးမရှိ၊ဗိုလ်ခြေ အရှင်ထာဝရ
ကိုစောင့်၍၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ
ဘုရား ရှေ့မှာ ညှိုး ငယ်စွာ ကျင့် ကြံ ပြု မူ ခြင်း
၁၅ အားဖြင့် အ အာယ် ကျေး ဇူး ရှိ သ နည်း။- မာန
ထောင်လွှားသောသူတို့ကိုမင်္ဂလာရှိသောသူဟူ
၍ငါတို့သည်ခေါ်ဝေါ်ကြ၏၊ အကယ်စင်စစ်ဒုစ
ရိုက်ကို ပြုသော သူတို့သည် အောင်တစ်ကြ၏၊
အကယ်စင်စစ်ဘုရားသခင်ကိုစုံစမ်းသော်လည်း
ချမ်းသာ ရတတ်ကြ၏ဟု သင်တို့သည် ပြောကြ
ပြီ
၁၆ ထိုအခါထာဝရဘုရားကိုကြောက်ရွံ့သောသူ
တို့သည်တယောက်ကို တယောက် နှုတ်ဆက်၍
ပြောဆိုကြ၏၊ ထာ ဝရဘုရား သည် ထည်း နား
ထောင် ၍ ကြား တော် မူ၏၊ ထာ ဝ ရ ဘု ရား ကို
ကြောက်ရွံ့၍ နာမတော်ကို အောင်းမေ့သော သူ
တို့ အဖို့၊ ရှေ့တော်တွင်စာရင်းဖြင့်မှတ်သားလျက်
၁၇ ရှိ၏။- ထိုသူတို့သည် ငါစီရင်သောနေ့ရက်၌ ငါ
ပိုင်ထိုက်သော ဘဏ္ဍာ တော် ဖြစ်ကြ လိမ့်မည်၊
အဖ၏အမှုကိုဆောင်သောသားကိုအဖ နှစ်မြော
သကဲ့သို့ထိုသူတို့ကိုငါနှစ်မြောမည်ဟု၊ကောင်း
ကင်ဗိုလ်ခြေ အရှင် ထာဝရ ဘုရား မိန့်တော်မူ
၁၈ ၏။- တဖန်သင်တို့သည်ပြောင်းလဲ၍ဖြောင့်မတ်
သောသူ၊မဖြောင့်မတ်သောသူ၊ ဘုရား သခင်၏
အမှုတော်ကို ဆောင်သောသူ၊ မဆောင်သောသူ
တို့ကိုပိုင်းခြား၍ သိရကြလိမ့်မည်။

၄

၁ မီးဖို၌မီးထောင်သကဲ့သို့ထောင်သောနေ့ရက်
ကာလသည်ရောက်လိမ့်မည်၊ မာနကြီးသောသူ
နှင့် ဒုစရိုက်ကို ပြုသော သူအပေါင်းတို့သည် အ
မှိုက်ခြောက် ဖြစ်ကြလိမ့်မည်၊ သူတို့ အရင်းအ
ဖျားမှ မကျန်ကြွင်းစေခြင်းငှါ ထိုနေ့ရက် သည်
ထောင်လိမ့်မည်ဟု၊ကောင်းကင်ဗိုလ်ခြေအရှင်
၂ ထာဝရဘုရားမိန့်တော်မူ၏။- ငါ၏နာမတော်ကို
ကြောက်ရွံ့သောသင်တို့၌ ကား၊ တရားတော်နေ
မင်းသည် အနာပျောက် စေသော အတောင် တို့
နှင့် ပေါ်ထွန်းတော်မူမည်၊ သင်တို့သည် ထွက်
သွား၍တင်းကုပ်၌နွားသငယ်ကဲ့သို့ရုန်းကြလိမ့်
၃ မည်၊-မတရားသောသူတို့ကိုထည်းနင်းကြလိမ့်
မည်၊ ထိုသို့ငါစီရင်သော နေ့ရက်၌ သူတို့သည်
သင်တို့ခြေဖဝါးအောက်၌ မြေမှုန့်ကဲ့သို့ ဖြစ်ကြ
လိမ့်မည်ဟု၊ ကောင်းကင်ဗိုလ်ခြေအရှင်ထာဝရ
ဘုရားမိန့်တော်မူ၏။
၄ ဟောရပ်၌ ငါမှာထားသော၊ငါ့ကျွန် မောရှေ၏
ဣသရေလအမျိုးသားအပေါင်းတို့အဖို့ဟော
တရားတည်းဟူသောစီရင်ထုံးဖွဲ့တော်မူချက်တို့
၅ ကိုအောင်းမေ့ကြလော့။- ကြည့်ရှုလော့၊ ထာ
ဝရ ဘုရား၏ ကြောက် မက်ဖွယ် သော နေ့ရက်
ကြီးမရောက်မှီ၊ပရောဖက်ဧလိယကိုသင်တို့ရှိရာ
၆ သို့ ငါစေလွှတ်မည်၊- ငါသည် လာ၍ သင်တို့၏
ပြည်ကို ကျိန်ခြင်းဒဏ်နှင့် ဒဏ်မခတ် မည် အ
ကြောင်း၊ထိုပရောဖက်သည်သားတို့နှင့်အဖတို့
ကိုငှင်၊ အဖတို့နှင့်သားတို့ကိုငှင် အသင့်အတင့်
ဖြစ်စေမည်ဟုမိန့်တော်မူ၏။

စဉ့်ယောင်းကျမ်းတို့တွင်နောက်ဆုံးကျမ်းတည်းဟူသော၊ပရောဖက်မာလခိစီရင်ရေးထားသော
အနာဂတ္တိကျမ်းပြီး၏။

# THE

# NEW TESTAMENT.

—OF—

# OUR LORD AND SAVIOUR JESUS CHRIST

TRANSLATED INTO THE BURMESE

FROM

THE ORIGINAL GREEK

—BY—

Rev. A. Judson, D. D.

BOSTON:
Published by the American Baptist Missionary Union
—1891.—

ဟေလသပါဠိတော်မှ မြန်မာဘာသာအားဖြင့်၊ ဆရာယုဒသန် အနက်ပြန်သော

# သခင်ယေရှုခရစ်၏

# ဓမ္မသစ်ကျမ်း။



၁၈၉၁ ခု
ဆရာမိန်ညည်ဗုတ်ရှိသောအမေရိကသာသနာပြုအသင်း၏ပုံနှိပ်တိုက်မှာပုံနှိပ်သည်။

## ဓမ္မသစ်ကျမ်း ၂၇ ကျမ်းတို့၏အမည်နာမများ။

# ရှင်မဿဲ ခရစ်ဝင်။

## MATTHEW

၁

၁ အာဗြဟံနှင့် ဒါဝိဒ်တို့မှ ဆင်းသက်တော်မူ
သောယေရှုခရစ်၏ ဆွေတော်စဉ်မျိုးတော်ဆက်
၂ စာရင်းဟူမူကား။- အာဗြဟံသား ဣဇာက်။ ဣ
ဇာက်သား ယာကုပ်။ ယာကုပ်သား ယုဒမှစ၍
၃ ညီနောင်တစု။- ယုဒသည် မိမိ ခင်ပွန်း တာမာ
တွင် မြင်သော သား ဖာရက်နှင့် ဇာရ။ ဖာရက်
၄ သား ဟေဇရုံ။ ဟေဇရုံသား အာရံ။- အာရံသား
အမိနဒပ်။ အမိနဒပ်သား နာရှုန်။ နာရှုန်သား စာ
၅ လမုန်။- စာလမုန်သည် မိမိ ခင်ပွန်း ရာခပ်တွင်
မြင်သောသား ဗောဇ။ ဗောဇသည် မိမိခင်ပွန်း
ရုသတွင် မြင်သောသား ဩဗက်။ ဩဗက်သား
ယေရှဲ။ ယေရှဲသား ဒါဝိဒ်မင်းကြီးတည်း။
၆ ဒါဝိဒ်မင်းကြီးသည် ဥရိယ၏ခင်ပွန်းဖြစ်ဘူး
၇ သောမိန်းမတွင်မြင်သောသား ရှောလမုန်။- ရှောလ
မုန်သား ရောဗောင်။ ရောဗောင်သား အဘိယ။
၈ အဘိယသား အာသ။- အာသသား ယောရှဖတ်။
ယောရှဖတ်သား ယောရံ။ ယောရံ သား
၉ ဩဇိ။- ဩဇိသား ယောသံ။ ယောသံသား အာ
၁၀ ခတ်။ အာခတ်သား ဟေဇကိ။- ဟေဇကိသား မ
နာရှေ။ မနာရှေသား အာမုန်။ အာမုန်သား ယော
၁၁ ရှိ။- ယောရှိသား ယောယကိမ်။ ယောယကိမ်
သည် ဗာဗုလုန်မြို့သို့နေရာပြောင်း ခါနီးတွင်မြင်
သောသား ယေခေါနိမှစ၍ ညီနောင်တစုတည်း။
၁၂ ဗာဗုလုန်မြို့သို့နေရာပြောင်းသည်နောက်၊ ယေ
ခေါနိသား ရှာလသေလ။ ရှာလသေလ သား ဇေ
၁၃ ရုဗဗေလ။- ဇေရုဗဗေလသား အဗျုဒ်။ အဗျုဒ်
သား ဧလျာကိမ်။ ဧလျာကိမ်သား အာဇော်။-
၁၄ အာဇော်သား ဇာဒုတ်။ ဇာဒုတ်သား အာခိမ်။
၁၅ အာခိမ်သား ဧလိဒ်။- ဧလိဒ် သား ဧလာဇာ။ ဧ
လာဇာ သား မဿန်။ မဿန် သား ယာကုပ်။-
၁၆ ယာကုပ် မြင်သော သားကား၊ မာရိ၏ခင်ပွန်း
ယောသပ် တည်း။ ထို မာရိသည် ခရစ်တူ ခေါ်
ဝေါ်သမုတ်သော ယေရှု၏မယ်တော်ဖြစ်၏။
၁၇ ဤသို့လျှင်၊ မျိုးစဉ် နှံ့ထိ ဆက် ပေါင်းကား၊
အာဗြဟံမှသည် ဒါဝိဒ်တိုင်အောင် တဆယ်လေး
ဆက်၊ ဒါဝိဒ်မှသည် ဗာဗုလုန်မြို့သို့နေရာပြောင်း
သည်တိုင်အောင် တဆယ်လေးဆက်၊ ဗာဗုလုန်
မြို့သို့ ပြောင်းပြီးမှသည် ခရစ်တော် တိုင်အောင်
တဆယ်လေးဆက် ဖြစ်သတည်း။
၁၈ ယေရှုခရစ်သည် ဖွားမြင်ခြင်းကို ခံတော်မူ
သော အကြောင်းအရာဟူမူကား၊ မယ်တော်မာ
ရိသည် ယောသပ်နှင့် ထိမ်းမြားဆောင်နှင်း၍ မ
ရှုတ် တင်မီ တွင် သန့်ရှင်းသော ဝိညာဉ်တော်
၁၉ ကြောင့် ပဋိသန္ဓေစွဲနေ၏။- သူ၏ ခင်ပွန်း ယော
သပ်သည် သူတော်ကောင်းဖြစ်၍၊ မာရိအသရေ
ကို မပျက်စေချင်သောကြောင့် တိတ်ဆိတ် စွာစွန့်
၂၀ ပယ်မည်ဟု အကြံရှိ၏။- ထိုသို့ကြံစည်၍ နေစဉ်
တွင် အိပ်မက်ကို မြင်ရသည်မှာ၊ ထာဝရဘုရား
၏ ကောင်းကင်တမန်သည် ထင်ရှား၍၊ ဒါဝိဒ်အ
မျိုး ယောသပ်၊ သင်၏ခင်ပွန်း မာရိကို ထိမ်းသိမ်း
ရမည် အခွင့်ကို မရိုးရိမ်နှင့်။ ဤပဋိသန္ဓေသည်
၂၁ သန့်ရှင်းသော ဝိညာဉ်တော်ကြောင့် ဖြစ်၏။- သား
ယောကျ်ားကို ဖွားမြင်လိမ့်မည်။ ထိုသားသည်
မိမိလူတို့ကို အပြစ်မှ ကယ်ချွတ်မည်သူဖြစ်သော
ကြောင့်၊ ယေရှုဟူသော အမည်ဖြင့် မှည့်ရမည်
ဟု၊ ကောင်းကင်တမန် ဆို၏။
၂၂ ထို အကြောင်းအရာ မူကား၊ ထာဝရ ဘုရား
သည် ပရောဖက်ဖြင့် ထားတော်မူသော ဗျာဒိတ်
၂၃ တော်ပြည့်စုံမည် အကြောင်းတည်း။- ဗျာဒိတ်
တော်အချက်ဟူမူကား၊ ကြည့်ရှုလော့၊ သတို့သမီး
ကညာသည် ပဋိသန္ဓေ စွဲယူ၍ သားယောကျ်ား
ကို ဖွားမြင်လတံ့။ ထိုသားကို ဧမာနွေလ အမည်
ဖြင့် မှည့်ရကြလတံ့ဟု ထားသတည်း။ ဧမာနွေ
လ အနက်ကား၊ ငါတို့နှင့် အတူ ရှိတော်မူသော
၂၄ ဘုရားသခင်ဟု ဆိုလိုသတည်း။- ယောသပ်သည်
အိပ်ပျော်ရာမှ နိုးလျှင်၊ ထာဝရဘုရား၏ကောင်း
ကင်တမန်မှာထားသည့် အတိုင်း ပြု၍ မိမိခင် ပွန်း
၂၅ ကို ထိမ်းသိမ်းလေ၏။- သို့သော်လည်း၊ သားဦး
ကို မဖွားမီတိုင်အောင် ထိပါးသမပြုဘဲနေ၏။ ထို
သားကိုလည်း ယေရှုဟူသော အမည်ဖြင့် မှည့်
လေ၏။

၂

၁ ယုဒပြည်ဗက်လင်မြို့၌၊ ဟေရုဒ်မင်းကြီးလက်
ထက်၊ ယေရှုသည်ဖွားမြင်ခြင်းကို ခံတော်မူပြီး
မှ၊ မာဂုပညာရှိတို့သည် အရှေ့ပြည်ကယေရုရှ
၂ လင်မြို့သို့ ရောက်လာကြလျှင်၊- ယခု ဖွားမြင်
သောယုဒရှင်ဘုရင်သည် အဘယ်မှာရှိတော်မူ
သနည်း၊ အရှေ့ပြည်၌သူ၏ကြယ်ကို ငါတို့မြင်ရ
သည်ဖြစ်၍ ရှိခိုးပူဇော်ခြင်းငှါ ရောက်လာပြီ
၃ ဟု မေးမြန်းပြောဆိုကြ၏။- ထိုစကားကို ကြား
လျှင်၊ ဟေရုဒ်မင်းကြီးသည် ယေရုရှလင် မြို့သူ
မြို့သားအပေါင်းတို့နှင့်တကွ စိတ်ပူပန်ခြင်းသို့
၄ ရောက်သဖြင့်၊- ယဇ်ပုရောဟိတ် အကြီးတို့နှင့်
လူတို့တွင် ကျမ်းပြုဆရာ ရှိသမျှတို့ကို စုဝေးစေ
၍၊ ခရစ်တော်ကိုအဘယ်အရပ်မှာဖွားမြင်လိမ့်
၅ မည်နည်းဟုမေးမြန်းတော်မူ၏။- ထိုဆရာတို့က
လည်း၊ ပရောဖက်တပါးရေးထားသော အချက်
၆ ဟူမူကား၊- ထိုယုဒပြည်ဗက်လင်မြို့၊ အမှုးရသော
ယုဒမြို့တို့တွင်သင်သည်မြို့ငယ်မြို့ဟုတ်မဟုတ်။
အကြောင်းမူကား၊ ငါ၏လူ၊ ဣသရေလအမျိုး
ကိုအုပ်စိုးရသောသခင်သည်သင်၏အထဲမှာပေါ်
ထွန်းလတံ့ဟု ကျမ်း လာ ရှိပါ၏။ ထိုကြောင့်၊
ယုဒ ပြည် ဗက်လင်မြို့၌ ခရစ်တော်ကို ဖွားမြင်
ရပါ မည်ဟု၊ မင်းကြီးအား ပြန်ကြား လျှောက်
ထားကြ၏။
၇ ထိုအခါ ဟေရုဒ်မင်းကြီးသည် မာဂုပညာရှိ
တို့ကို မထင်မရှားခေါ်၍၊ ကြယ်ပေါ်ထွန်းသော
၈ အချိန်ကာလကို စေ့စေ့ မေးမြန်းပြီးမှ၊- သင်တို့
သွား၍ ထိုသူငယ်ကို ကြိုးစား ရှာကြပါ၊ တွေ့
လျှင်ငါ့ထံသို့ပြန်လာ၍၊ ငါလည်း ထိုသူငယ်ကို
ရှိခိုးပူဇော်ရအောင် ကြားပြောကြပါဟု မှာ
ထားတော်မူလျှက်၊ ဗက်လင်မြို့သို့စေလွှတ်တော်
၉ မူ၏။- ထိုသူတို့သည် မင်းကြီးစကားကို နားခံပြီး
လျှင်ထွက်သွားကြ၍၊ အရှေ့ပြည်၌ မြင်ရသော
ကြယ်သည် သူတို့ရှေ့က သွားသဖြင့်၊ သူငယ်
တော်ရှိရာအရပ်အပေါ်သို့ရောက်၍တည်လျှက်
၁၀ နေ၏။- ထိုကြယ်ကို မြင်ပြန်သောအခါ အလွန်
၁၁ ဝမ်းမြောက်ဝမ်းသာခြင်းရှိ၍၊- အိမ်သို့ဝင်ပေ
သော်၊ မယ်တော်မာရိနှင့်တကွ သူငယ်တော်ကို
တွေ့မြင်လျှင် ပြပ်ဝပ်ကိုးကွယ်၍၊ မိမိတို့ဘဏ္ဍာ
ဥစ္စာတို့ကိုဖွင့်ပြီးမှ ရွှေ၊ လောဗန်နှင့် မုရန်တည်းဟူ
သောနံ့သာမျိုးကိုငင်၊ ရှုကိုငင်ဆက်ကပ်ပူဇော်
၁၂ ကြ၏။- နောက်မှဟေရုဒ်မင်းကြီးထံသို့ မပြန်ရ
မည်အကြောင်း၊ အိပ်မက်တွင် ဗျာဒိတ်တော်ကို
ရ၍ မိမိတို့ပြည်သို့ အခြားသော လမ်းခြင့် ပြန်
သွားကြ၏။
၁၃ ထိုသူတို့ သွားကြသည်နောက်၊ ယောသပ်
သည်အိပ်မက်ကိုမြင်သည်မှာ၊ ထာဝရဘုရား၏
ကောင်းကင် တမန် သည် ထင်ရှား၍၊ သင်ထ
လော့၊ မယ်တော်နှင့်သူငယ်တော်ကိုဆောင်ယူ
ပြီးလျှင် အဲဂုတ္တုပြည်သို့ပြေး၍ ငါတဖန်ငါပြော
ဆိုသည်တိုင်အောင်ထိုပြည်၌နေလော့၊ ဟေရုဒ်
မင်းကြီးသည်သူငယ်တော်ကို သတ်အံ့သောငှါ
၁၄ ရှာလိမ့်မည်ဟု ဆိုလေ၏။- ထိုအခါ ယောသပ်
သည်ထ၍ မယ်တော်နှင့် သူငယ်တော်ကိုညဉ့်
အချိန် ၌ ဆောင်ယူ ပြီးလျှင်၊ အဲဂုတ္တုပြည်သို့
၁၅ ထွက်သွား၍၊- ဟေရုဒ် မင်းကြီး အနိစ္စရောက်
သည် တိုင် အောင် ထို ပြည်၌ နေ လေ၏။ ဤအ
ကြောင်းအရာကား၊ သားကိုအဲဂုတ္တုပြည်မှငါ
ခေါ်ခဲ့ပြီဟု၊ ထာဝရဘုရားသည်ပရောဖက်ဖြင့်
ထားတော်မူသော ဗျာဒိတ်တော် ပြည့်စုံမည့်အ
ကြောင်းတည်း။
၁၆ ထိုအခါ ဟေရုဒ် မင်းကြီးသည် မာဂုပညာရှိ
တို့လှည့်ဖြားသည်ကို သိလျှင်၊ ပြင်းစွာ အမျက်
ထွက်၍ လူကိုစေလွှတ်သဖြင့်၊ မာဂုပညာရှိတို့၌
စေ့စေ့ မေးမြန်းပြီးသော ကြယ်၏ အချိန်ကာလ
ကိုထောက်၍၊ ဗက်လင်မြို့မှစသောကျေးလက်
ရှိသမျှတို့၌ နှစ်နှစ် အရွယ် မှစ၍ ထို အရွယ်
အောက်ယုတ်သောသူငယ်ယောက်ျားအပေါင်း
၁၇ တို့ကို သတ်စေ၏။- ပရောဖက်ယေရမိဟောဘူး
၁၈ သည်ကား၊- ရာမအရပ်၌ သည်းစွာသောညည်း
တွားငိုကြွေး ခြင်းတမ်းခြင်းအသံကို ကြားရ၍၊
ရာခေလသည် မိမိသားတို့မရှိသောကြောင့်ငို၍
စိတ်မပြေနိုင်ဟူသောစကားသည် ထိုအခါ၌အ
မှန်ကျသတည်း။
၁၉ ဟေရုဒ် မင်းကြီး အနိစ္စ ရောက် သည်နောက်၊
ယောသပ်သည်အဲဂုတ္တုပြည်၌အိပ်မက်ကိုမြင်
ပြန်သည်မှာ၊ ထာဝရ ဘုရား၏ ကောင်းကင်တ
၂၀ မန်သည်ထင်ရှား၍၊- သင်ထလော့၊ မယ်တော်
နှင့်သူငယ်တော်ကိုဆောင်ယူပြီးလျှင်၊ ဣသရေ
လတိုင်းသို့ သွားလော့၊ သူငယ်တော်ကို သတ်
အံ့သောငှါရှာသောသူတို့သည်သေကြပြီဟုဆို
၂၁ လေ၏။- ထိုအခါယောသပ်သည်ထ၍ မယ်တော်
နှင့်သူငယ်တော်ကိုဆောင်ယူပြီးလျှင်၊ ဣသရေ
၂၂ လတိုင်းသို့သွား၍ ရောက်သည်ရှိသော်- ဟေ

ရုပ်မင်းကြီး၏အရာ၌သားတော်အာခေလသည်
ယုဒပြည်တွင် မင်းပြုကြောင်းကို ကြားရလျှင်၊
ထိုပြည်သို့မသွားဝံ့၍၊ အိပ်မက်၌ဗျာဒိတ်တော်
၂၃ ကိုရပြန်ပြီးမှဂါလိလဲပြည်သို့သွား၍၊-ခရစ်တော်
ကို နာဇရက်လူဟု ခေါ်ဝေါ်ကြလတံ့ ဟူသော
ပရောဖက်တို့၏ နှုတ်ထွက်နှင့်အညီ၊ နာဇရက်
အမည်ရှိသော မြို့သို့ရောက်၍အမြဲနေလေ၏။

၃

ထိုကာလအခါ နှစ်ခြင်းဆရာယောဟန်သည်
ပေါ်ထွန်းလျှင်၊ ကောင်းကင် နိုင်ငံတော်သည်
၂ တည်လုနီးပြီ။-ထိုကြောင့်၊ နောင်တရကြလော့
၃ ဟုယုဒတော၌ဟောလေ၏။- ပရောဖက်ဟေရှာ
ယဟောဘူးသည်ကား၊တော၌ဟစ်ကြော်သော
သူ၏အသံမှာ၊ထာဝရဘုရားကြွတော်မူရာလမ်း
ကိုပြုပြင်ကြလော့။ လမ်းခရီးတော်ကို ဖြောင့် စေ
ကြလော့ဟူသော အချက်၌ ထိုယောဟန်ကို ဆို
၄ လိုသတည်း။-ယောဟန်သည်ကုလားအုတ်အ
မွေးနှင့်ရက်သော အဝတ်ကို ဝတ်လျက်၊ ခါး၌
သားရေခါးပန်းကို စည်းလျက်၊ ကျိုင်းကောင်
နှင့်တော၌ဖြစ်သောပျားရည်ကိုစားလျက်နေ၏။-
၅ ထိုအခါ ယေရုရှလင်မြို့မှစ၍ ယုဒပြည်သူပြည်
သားနှင့်၊ ယော်ဒန်မြစ်နားမှာနေသော သူအပေါင်း
၆ တို့သည်ယောဟန်ထံသို့ထွက်သွား၍၊-မိမိတို့
အပြစ်များကို ဖော်ပြလျက်၊ ယော်ဒန်မြစ်၌ နှစ်
ခြင်းကိုခံကြ၏။

ဖာရိရှဲနှင့်ဇဒ္ဒုကဲအများတို့သည် နှစ်ခြင်းကို
ခံအံ့သော ငှါလာ ကြသည်ကို ယောဟန် သည်
မြင်လျှင်၊ အချင်း မြွေဆိုး အမျိုးတို့၊ ရောက် လု
သော ဒေါသ ဒဏ်မှ ပြေး သွား မိမ့်သောငှါ၊ အ
ဘယ်သူသည်သင်တို့ကိုသတိပေးဘိသနည်း။-
၈ နောင်တရခြင်းနှင့် ထိုက်တန်သော အကျင့် ကို
၉ ကျင့်ကြလော့။- အာဗြဟံသည် ငါတို့ အဘဖြစ်
သည်ဟူ၍ စိတ်ထဲ၌ မအောင်းမေ့ကြနှင့်။ ဘုရား
သခင်သည် ဤကျောက်ခဲတို့မှအာဗြဟံသားတို့
ကို ထုတ်ဖော် ဖန်ဆင်း နိုင်တော် မူသည်ဟု ငါ
၁၀ အမှန်ဆို၏။- သစ်ပင် အမြစ်နားမှာ ပုဆိန်ထား
လျက်ရှိသည်ဖြစ်၍၊ ကောင်းသောအသီးမသီး
သောအပင်ရှိသမျှတို့ကိုခုတ်လှဲ၍ မီးထဲသို့ချ
၁၁ လိုက်ရ၏။- ငါသည်နောင်တအဖို့ အလို့ငှါသင်
တို့ကိုရေ၌နှစ်၏။ ငနောက်ကြွလာသောသူသည်
ငထက်တတ်စွမ်းနိုင်၏။ ထိုသူ၏ခြေနင်းတော်ကို
မျှဆောင်ခြင်းငှါငါမထိုက်။ ထိုသူသည်သန့်ရှင်း
သောဝိညာဉ်တော်၌၎င်း၊ မီး၌၎င်းသင်တို့ကို နှစ်
၁၂ တော်မူမည်။-လက်တော်တွင်စံကောပါလျက်၊
မိမိ ကောက်နယ်တလင်းကို ရှင်းလင်းစေသဖြင့်
မိမိ ဂျုံစပါးကို ကျီ၌ စုသိမ်း သွင်းထား၍၊ အ
ဖျင်း ကိုကား၊ မငြိမ်းနိုင်သော မီးနှင့် နှို့တော်မူ
လတံ့ဟုယောဟန်ဟောပြော၏။
၁၃ ထိုအခါယေရှုသည် နှစ်ခြင်းကိုခံအံ့သောငှါ၊
ဂါလိလဲပြည်မှ ယော်ဒန် မြစ်နား၊ ယောဟန်ထံ
၁၄ သို့ကြွတော်မူ၏။-ယောဟန်ကလည်း၊ အကျွန်ုပ်
သည် ကိုယ်တော်ထံ၌ နှစ်ခြင်းကို ခံရ မည် အ
ကြောင်းရှိပါသည်ဖြစ်၍၊ ကိုယ်တော်သည် အ
ကျွန်ုပ်ထံသို့ကြွလာတော်မူသလောဟု၊ ယေရှုကို
၁၅ ဆီးတားလေ၏။-ယေရှုကလည်း၊ အလုံးစုံသော
တရားတို့ကို အကုန်အစင်ကျင့်သင့်သည်ဖြစ်၍၊
ယခုအခွင့်ပေးပါဟု ပြန်ပြောတော်မူ၏။ ထိုအ
၁၆ ခါယောဟန်သည်ဝန်ခံလေ၏။-ယေရှုသည်နှစ်
ခြင်းကိုခံတော်မူပြီးလျှင်၊ ရေမှပေါ်ထစည်တွင်၊
ကောင်းကင်ဖွင့်လှစ်သဖြင့်ဘုရားသခင်၏ဝိညာဉ်
တော်သည် ခို့ငှက်ကဲ့သို့ ဆင်းသက်၍ ကိုယ်
၁၇ တော်အပေါ်၌နားတော်မူသည်ကိုမြင်ရ၏။-ဤ
သူကား၊ ငါနှစ်သက်မြတ်နိုးရာ၊ ငါ၏ချစ်သားပေ
တည်းဟု၊ ကောင်းကင်ကအသံတော်ဖြစ်လေ၏။

၄

၁ ထိုအခါမာရ်နတ်၏စုံစမ်းသွေးဆောင်ခြင်းကို
ခံစေမည်အကြောင်း၊ ဝိညာဉ်တော်သည်ယေရှု
၂ ကိုတောသို့ ပို့ဆောင် တော်မူ၍၊- ယေရှုသည်
အရက်လေးဆယ်ပတ်လုံးအစာအာဟာရကို မ
သုံးဆောင်ဘဲနေပြီးမှ၊ မွတ်သိပ်ခြင်းသို့ ရောက်
၃ တော်မူ၏။- ထိုအခါစုံစမ်းသွေးဆောင်သောသူ
သည်ချဉ်းကပ်၍၊ ကိုယ်တော်သည်ဘုရားသခင်
၏ သားတော်မှန်လျှင်၊ ဤကျောက်ခဲတို့ကို မုန့်
ဖြစ် စေခြင်းငှါ အမိန့် ရှိတော် မူပါဟု လျှောက်
၄ လေ၏။-ယေရှုကလည်း၊ လူသည်မုန့်အားဖြင့်
သာအသက်ကိုမွေးရမည်မဟုတ်။ ဘုရားသခင်
မိန့်တော်မူသမျှအားဖြင့် အသက်ကိုမွေးရမည်
ကျမ်းစာလာသည်ဟုပြန်ပြောတော်မူ၏။
၅ ထိုအခါ မာရ်နတ် သည် ယေရှုကို သန့် ရှင်း
သောမြို့တော်သို့ ဆောင်သွား၍ ဗိမာန်တော်၏
၆ အထွတ်၌တင်ထားပြီးလျှင်၊-ကျမ်းစာလာသည်
ကား၊ ကောင်းကင် တမန် တို့အား သင့်အဖို့မှာ
ထားတော်မူသည်ဖြစ်၍၊ သင်၏ခြေကိုကျောက်
နှင့်မထိမခိုက်စေခြင်းငှါသူတို့သည်သင့်ကိုလက်

နှင့် မစရှိပင့်ကြလိမ့်မည်ဟု ထာ၏။ ထိုကြောင့်၊
ဘုရားသခင်၏ ထားတော်မှန် လျှင် ကိုယ်ကို
မစခက်ထို့ ချလိုက်တော်မူပါဟု လျှောက် လေ
၇ ၏။-ယေရှုကလည်း၊သင်၏ဘုရားသခင်ထာဝရ
ဘုရားကို ထပ်သည် အစုံအစမ်းမပြုရဟု ကျမ်း
စာလာပြန်သည်ဟုမိန့်တော်မူ၏။
၈ တဖန်မာရ်နတ်သည် ယေရှုကို အလွန်မြင့်ဘ
စွာသောတောင်ပေါ်သို့ ဆောင်သွား၍၊ဤလော
ကဠ် ရှိသမျှသော တိုင်းနိုင်ငံတို့ကိုငှင်၊ ထိုတိုင်း
၉ နိုင်ငံတို့၏ဘုန်းစည်းစိမ်ကိုငှ င်ပြသန်၍၊- ကိုယ်
တော်သည်ငကိုညွတ်ပြပ် ကိုးကွယ်လျှင်ယခုပြ
၁၀ သေသမျှတို့ကို ငါပေးမည်ဟုဆိုလေ၏။- ယေရှု
က လည်း၊ အချင်း စာ တန်၊ ငနောက် သို့ ဆုတ်
လော့။သင်၏ဘုရားသခင်၊ထာဝရဘုရားကိုကိုး
ကွယ်ရမည်။ ထိုဘုရားသခင် ကို သာ ဝတ်ပြုရ
၁၁ မည်ကျမ်းစာလာသည်ဟုမိန့်တော်မူ၏။- ထိုအ
ခါ မာရ်နတ်သည် အထံတော်မှ ထွက် သွား၍၊
ကောင်းကင်တမန်တို့သည်ချဉ်းကပ်လျက်လုပ်
ကျွေးကြ၏။
၁၂ ယောဟန်သည်ထောင်ထဲသို့ရောက်ကြောင်း
ကို ယေရှုသည်ကြားလျှင်၊ ဂါလိလဲပြည်သို့ကြွ
၁၃ တော်မူ၍၊- နာဇရက်မြို့ကို စွန့် သွားလျက်၊ ဇာ
ဗုလုန်ခရိုင်၊ နဿလိခရိုင်စပ်ကြားတွင်အိုင်နှင့်
နီး စပ် သော ကပေရနောင် မြို့သို့ ရောက် ၍ နေ
၁၄ တော်မူ၏။-ဤအကြောင်းအရာကား၊ပရောဖက်
ယေရှာယ၏ နှုတ်ထွက်ပြည့်စုံမည် အကြောင်း
၁၅ တည်း။-နှုတ်ထွက်အချက်ဟူမူကား၊ဇာဗုလုန်
ခရိုင်နှင့် နဿလိ ခရိုင်တည်းဟူသော အိုင်နား
ရှောက်သောလမ်း၊ ယော်ဒန်မြစ်တဖက်၊ တပါး
၁၆ အမျိုးသားနေရာ ဂါလိလဲပြည်၊- မှောင်မိုက်ထဲ
မှာရှိနေသော လူများတို့သည် ကြီးစွာသော အ
ထင်းကိုမြင်ရ၍၊သေမင်း၏ နိုင်ငံအရိပ်တွင်ရှိနေ
သော သူတို့၌ အ လင်း ပေါ် ထွန်း လျက် ရှိ၏ ဟု
၁၇ ဟောထားသတည်း။- ထိုအခါမှစ၍ ယေရှုက၊
နောင် တ ရကြ လော့၊ ကောင်း ကင် နိုင်ငံ တော်
သည်တည်လုနီးပြီဟူသောတရားကို ဟောစပြု
တော်မူ၏။
၁၈ ဂါလိလဲအိုင်နားမှာ ကြွတော်မူစဉ်၊ ပေတရု
ဟူ၍ ခေါ်ဝေါ်သော ရှိမုန်နှင့်အန္ဒြေ၊ ညီအစ်ကို
နှစ်ယောက်တို့သည်တံငါဖြစ်၍၊ အိုင်တွင်ပိုက်
၁၉ ကွန်ဖြန့်ချသည်ကို မြင်တော်မူလျှင်၊- ထိုသူတို့
အား၊ ငါ့နောက်သို့လိုက်ကြလော့၊ သင်တို့သည်
လူကိုမျှားသောတံငါဖြစ်စေခြင်းငှါငါပြုမည်ဟု
၂၀ အမိန့် တော်ရှိ လေသော်၊- ထိုသူတို့သည် ချက်
ချင်းပိုက်ကွန်ကိုစွန့်ပြစ်၍ နောက်တော်သို့လိုက်
၂၁ ကြ၏။- ထိုမှလွန်ပြန်လျှင် အခြားသောညီအစ်
ကို နှစ်ယောက်၊ ဇေဗေဒဲ၏ သား၊ ယာကုပ် နှင့်
ယောဟန်တို့သည် သူတို့အဖ နှင့်အတူ လှေပေါ်
မှာပိုက်ကွန်ပြင်နေသည်ကိုမြင်၍ခေါ်တော်မူ၏။-
၂၂ ထိုသူတို့ သည်လည်း ချက်ချင်းအဖ နှင့် လှေကို
စွန့်ပြစ်၍နောက်တော်သို့လိုက်ကြ၏။
၂၃ ယေရှုသည်တရားဇရပ်တို့၌ ဆုံးမြဩဝါဒပေး
လျက်၊ နိုင်ငံတော်နှင့်ရှုည်သောဧဝံဂေလိတရား
ကိုဟောလျက်၊လူတို့တွင်အနာရောဂါအမျိုးမျိုး
တို့ကိုငြိမ်းစေလျက်၊ ဂါလိလဲပြည် တပြည်လုံး
၂၄ ကို ဒေသစာရီ လှည့်လည် တော်မူ၏။- ထိုတင်း
တော်သည်လည်း ရှုရိပြည်၌ အနှံ့ အပြားကျော်
စောသည်ဖြစ်၍နတ်ဝင်သောသူ၊ဝက်ရူးစွဲသော
သူ၊ လက်ခြေ သေသောသူမှစသော၊ အထူးထူး
အပြားပြားသောအနာရောဂါစွဲ၍ မကျန်းမမာ
သောသူရှိသမျှတို့ကိုအထံတော်သို့ဆောင်ခဲ့ကြ
၍၊ သူတို့၏အနာရောဂါကို ငြိမ်းစေတော်မူ၏။-
၂၅ ဂါလိလဲပြည်၊ဒေကပေါလိပြည်၊ ယေရုရှလင်မြို့
မှစသော ယုဒပြည်၊ ယော်ဒန်မြစ် တဖက်မှ သော
သော လူများအပေါင်းတို့သည် နောက်တော်သို့
လိုက်ကြ၏။

၅

၁ ထိုလူ အပေါင်းတို့ကို မြင် လျှင်၊ ကိုယ်တော်
သည်တောင်ပေါ်သို့တက်၍ ထိုင်တော်မူသောအ
ခါ၊ တပည့် တော်တို့သည် ကိုယ် တော် ရင်း သို့
၂ ချဉ်းကပ်ကြ၏။- ထိုအခါ နှုတ်တော်ကို ဖွင့်၍
တပည့် တော်တို့အား ဆုံးမ ဩဝါဒ ပေး တော်မူ
၃ သည်မှာ၊- စိတ်နှလုံး နှိမ့်ချသော သူတို့သည်
မင်္ဂလာရှိကြ၏။အကြောင်းမူကား၊ကောင်းကင်
၄ နိုင်ငံတော်သည်ထိုသူတို့၏ နိုင်ငံဖြစ်၏။- စိတ်မ
သာညည်းတွားသော သူတို့သည် မင်္ဂလာရှိကြ
၏။အကြောင်းမူကား၊ ထိုသူတို့သည် ထက်သာ
၅ ခြင်းသို့ ရောက် ကြလတံ့။- စိတ် နူးညံ့ သိမ်မွေ့
သော သူတို့သည် မင်္ဂလာ ရှိကြ၏။ အကြောင်းမူ
ကား၊ ထိုသူတို့သည်ပြည်တော်ကို အမွေခံရကြ
၆ လတံ့။- ဖြောင့် မတ် ခြင်း ပါရမီကို ဆာငတ် ခင်
ပွတ်သောသူတို့သည်မင်္ဂလာရှိကြ၏။အကြောင်း
မူကား၊ ထိုသူတို့သည်ဝပြောခြင်းသို့ရောက်ကြ
၇ လတံ့။-သနားစုံမက်တတ်သောသူတို့သည် မင်္ဂ

ထားရှိကြ၏၊ အကြောင်းမူကား၊ ထိုသူတို့သည်
၈ အနားစုံမက်ခြင်းကိုခံရကြလတ္တံ့၊ စိတ်နှလုံးဖြူ
စင်သောသူတို့သည်မင်္ဂလာရှိကြ၏၊ အကြောင်း
မူကား၊ ထိုသူတို့သည် ဘုရားသခင်ကို မြင်ရကြ
၉ လတ္တံ့၊- သူတပါးနှင့်ခိုက်ရန်ပြုခြင်းကိုငြိမ်းစေ
တတ်သော သူတို့သည် မင်္ဂလာ ရှိကြ၏၊ အ
ကြောင်းမူကား၊ ထိုသူတို့သည် ဘုရားသခင်၏
သားတော်ဟု ခေါ်ဝေါ်ခြင်းကို ခံရကြ လတ္တံ့၊-
၁၀ ဖြောင့်မတ်ခြင်းတရားကြောင့်နှောင့်ရှက်ညှဉ်း
ဆဲခြင်းကို ခံရသောသူတို့သည် မင်္ဂလာရှိကြ၏၊
အကြောင်းမူကား၊ ကောင်းကင်နိုင်ငံတော်သည်
၁၁ ထိုသူတို့၏နိုင်ငံဖြစ်၏၊ ငါ့ကြောင့်သင်တို့ကိုကဲ့ရဲ့
ညှဉ်းဆဲ၍၊ မမှန်ဘဲလျက်အပြစ်တကာတင်ကြ
၁၂ သောအခါ၊ သင်တို့သည် မင်္ဂလာရှိကြ၏၊- ဝမ်း
မြောက် ရွှင်မြူးခြင်း ရှိကြလော့၊ အကြောင်းမူ
ကား၊ ကောင်းကင်ဘုံ၌ သင်တို့၏ အကျိုးသည်
ကြီးလှပေ၏၊ သင်တို့ရှေ့ကပေါ်ထွန်းသောပရော
ဖက်တို့ကိုထိုနည်းတူညှဉ်းဆဲကြပြီ၊
၁၃ သင်တို့သည်ဤလောက၏ဆားဖြစ်ကြ၏၊ ဆား
မူကား၊ အငန်ကင်းပျောက်လျှင်၊ ငန်သောအရ
သာကို အဘယ်သို့ ရပြန်မည်နည်း၊ ပြင်သို့ပြစ်
လိုက်၍ ကျော်နင်းခြင်းမှ တပါး အဘယ်အသုံး
၁၄ မျှမဝင်၊- သင်တို့သည်ဤလောက၏အလင်းဖြစ်
ကြ၏၊ တောင်ထိပ်၌ တည်သော မြို့ကို မကွယ်
၁၅ နိုင်၊- ဆီမီးထွန်း၍ တောင်းဖြင့်ထားဖုံးအောက်၌
စုံးထားလေ့မရှိ၊ အိမ်သူအိမ်သား အပေါင်းတို့
သည် အလင်းကို ရစေခြင်းငှါ ဆီမီးခုံပေါ်မှာ
၁၆ တင်ထားလေ့ရှိ၏၊- ထိုနည်းတူ၊ သူတပါးတို့
သည်သင်တို့၏ ကောင်းသောအကျင့်ကို မြင်၍၊
ကောင်းကင်ဘုံ၌ ရှိတော်မူသော သင်တို့ အဘ၏
ဂုဏ်တော်ကိုချီးမွမ်းစေခြင်းငှါ၊ သူတပါးရှေ့၌
သင်တို့အလင်းကိုလင်းစေကြလော့၊
၁၇ ပညတ္တိကျမ်း၊ အနာဂတ္တိကျမ်းများကို ဖျက်
ပယ်ခြင်းငှါ ငါလာသည်ဟုမထင်ကြနှင့်၊ ဖျက်
ပယ်ခြင်းငှါငါလာသည်မဟုတ်၊ပြည့်စုံစေခြင်း
၁၈ ငှါငါလာသတည်း၊- ငါအမှန်ဆိုသည်ကား၊
ကောင်းကင်နှင့် မြေကြီးမပျက်စီးမှီတိုင်အောင်၊
ပညတ္တိကျမ်း၌ အငယ်ဆုံးသောစာလုံး၊ မှိန်ချတ
၁၉ လုံးမျှပြည့်စုံခြင်းသို့မရောက်မှီမပျက်စီးရ၊- ထို
ကြောင့်၊ အကြင်သူသည်၊ အငယ်ဆုံးသော
ပညတ်တစုံကိုကိုယ်တိုင်လွန်ကျူး၍၊ သူတပါး
တို့အားထည်း၊ ထိုအတူသွန်သင်၏၊ ထိုသူသည်
ကောင်းကင်နိုင်ငံတော်၌ အငယ်ဆုံးသောသူ
ဖြစ်လိမ့်မည်၊ အကြင်သူသည် ကိုယ်တိုင်ကျင့်
၂၀ ၍၊သူတပါးတို့အားထည်း၊ သွန်သင်၏၊- ထိုသူ
သည်ကောင်းကင်နိုင်ငံတော်၌ ကြီးသောသူဖြစ်
လိမ့်မည်၊သင်တို့ကျင့်သောအကျင့်သည်ဖာရိရှဲ
တို့နှင့် ကျမ်းပြုဆရာတို့ကျင့်သော အကျင့်ထက်
မလွန်မသာလျှင်၊သင်တို့သည် ကောင်းကင်နိုင်
ငံတော်သို့မဝင်ရကြဟု ငါအမှန်ဆို၏၊
၂၁ လူအသတ်ကိုမသတ်ရ၊ သတ်သောသူသည်
ရုံး၌ အပြစ်စီရင်ခြင်းကို ခံထိုက်ပေ၏ ဟူသော
၂၂ ရှေးပညတ်စကားကို သင်တို့ကြားရပြီ၊- ငါ
ပညတ်သည်ကား၊ ညီအစ်ကိုကို အကြောင်းမ
တန် အမျက်ထွက်သော သူသည် ရုံး၌ အပြစ်စီ
ရင်ခြင်းကိုခံထိုက်ပေ၏၊ညီအစ်ကိုကိုကဲ့ရဲ့သော
သူသည်လွှတ်တော်၌အပြစ်စီရင်ခြင်းကိုခံထိုက်
ပေ၏၊ ညီအစ်ကိုကို ကျိန်ဆဲသော သူသည်ဂေ
၂၃ ဟနာ အရပ်၌ မီးရှို့ခြင်းကို ခံထိုက် ပေ၏၊- ထို
ကြောင့်၊ သင်သည်ပူဇော်သက္ကာကို ယဇ်ပလ္လင်
သို့ဆောင်ယူခဲ့လျက်၊သင်၏ညီအစ်ကိုသည်သင်
၌ အပြစ်တင်ခွင့်တစုံတခုရှိသည်ဟု အောက်မေ့
သတိရလျှင်၊ ယဇ်ပလ္လင်ရှေ့မှာ ပူဇော်သက္ကာ
၂၄ ကိုထား၍ သွားလော့၊- ညီအစ်ကိုနှင့်သင့်တင့်
၂၅ ပြီးမှပြန်၍ ပူဇော်သက္ကာကိုတင်လော့၊- တရား
တွေ့ဖက်နှင့်အတူလမ်း၌သွားစဉ်တွင်ပင်၊ သူ၏
စိတ်ကိုပြေစေခြင်းငှါ အလျင်အမြန်ပြုလော့၊ သို့
မဟုတ်၊ တရားတွေ့ဖက်သည် တရားသူကြီး၌
အပ်မည်၊ တရားသူကြီးသည်လည်း လုလင်
ခေါင်း၌ အပ်၍ ထောင်ထဲ၌ ချောင်ထားမည်၊-
၂၆ လျော်ပြစ် ငွေ ရှိသမျှကို မလျော်မှီ ထိုင်အောင်
ထောင်ထဲကမထွက်ရဟုငါအမှန်ဆို၏၊
၂၇ လူမယားကိုမပြစ်မှားရဟူသော ရှေးပညတ်
၂၈ စကားကို သင်တို့ကြားရပြီ၊- ငါ ပညတ်သည်
ကား၊ ကိလေသာစိတ်နှင့် သူမယားကိုကြည့်ရှု
သော သူသည် စိတ်နှလုံးထဲ၌ ထိုမိန်းမနှင့် ပြစ်
၂၉ မှားပြီ၊- ထိုကြောင့်၊ လက်ျာမျက်စိ ပြစ်စေ
သည်၊ သင့်ကို မှားယွင်းစေလျှင်၊ ထိုမျက်စိကို
ထုတ်ပြစ်လော့၊ တကိုယ်လုံးငရဲသို့ ချခြင်းကိုခံ
ရသည်ထက်အင်္ဂါတခုပျက်သော်သာ၍ကောင်း
၃၀ ၏၊- ထိုနည်းတူ၊ လက်ျာလက်ပြစ်စေသော်ထည်း
သင့်ကိုမှားယွင်းစေလျှင်၊ ထိုလက်ကို ဖြတ်ပြစ်
လော့၊ တကိုယ်လုံး ငရဲသို့ ချခြင်းကို ခံရသည်
ထက်အင်္ဂါတခုသာပျက်သော်သာ၍ကောင်း၏၊

၃၁ တဖန်တုံ၊ မယားနှင့်ကွာလိုလျှင် ဖြတ်စာကို
၃၂ အပ်ပေးစေ ဟူသော ပညတ် စကား ရှိပြီ။– ငါ
ပညတ်သည်ကား၊ မှားယွင်းခြင်း အကြောင်းမှ
တပါး အခြားသောအကြောင်းဖြင့်၊ မိမိမယား
နှင့်ကွာသော သူသည် မိမိမယားကိုမှားယွင်းစေ
၏၊ ကွာသော မိန်းမနှင့် စုံဖက် ခြင်းကို ပြုသော သူ
သည်လည်း သူ့မယားကိုပြစ်မှား၏။
၃၃ တဖန်တုံ၊ မထုတ်မမှန်ဘဲလျက်ကျိန်ဆိုခြင်း
ကိုမပြုရ၊ ကျိန်ဆိုခြင်းကိုပြုသည် အတိုင်း၊ ထာ
ဝရဘုရားရှေ့တော်၌တည်စေလော့ဟူသောရှေး
၃၄ ပညတ်စကားကို သင်တို့ကြားရပြီ။– ငါပညတ်
သည် ကား၊ ကျိန် ဆို ခြင်း ကို အလျှင်း မပြု ရ၊
ကောင်းကင်ဘုံကိုတိုင်တည်၍မကျိန်ရ၊ ကောင်း
ကင်ဘုံကား၊ ဘုရားသခင်၏ပလ္လင်တော်ဖြစ်သ
၃၅ တည်း။– မြေကြီးကိုတိုင်တည်၍မကျိန်ရ၊ မြေ
ကြီးကား၊ ဘုရားသခင်၏ခြေတော်တင်ရာ ခုံဖြစ်
သတည်း။ ယေရုရှလင်မြို့ကိုတိုင်တည်၍မကျိန်
၃၆ ရ၊ မဟာမင်းကြီး၏ မြို့တော် ဖြစ်သတည်း။– ဆံ
ခြည်တပင်ကိုမျှ ဖြူ စေခြင်း၊ မည်း စေခြင်း ငှါ မ
တတ် နိုင်သော်၊ ကိုယ်ဦးခေါင်းကိုတိုင်တည်၍
၃၇ မကျိန်ရ။– သင်၏ စကားမှာ ထုတ်သည် ကို အ
ထုတ်၊ မထုတ်သည်ကိုမထုတ် ဖြစ်စေလော့၊ ဤ
ထက်လွန်သောစကားသည် မကောင်းသော အ
ရာနှင့်စပ်ဆိုင်ပေ၏။
၃၈ သူ့မျက်စိကိုဖောက်လျှင် ကိုယ်မျက်စိဖောက်ခြင်း
ကိုခံစေ၊ သူ့သွားကိုချိုးလျှင်ကိုယ်သွားချိုးခြင်း
ကိုခံစေဟူသောပညတ်စကားကိုသင်တို့ကြားရ
၃၉ ပြီ။– ငါပညတ်သည်ကား၊ နှောင့်ရှက်သောသူ
ကိုမဆီးမတားနှင့်၊ သင်၏ပါးတဖက်ကို သူတ
ပါး ရိုက် လျှင်၊ ပါး တဖက် ကို လှည့် ၍ ပေး ဦး
၄၀ လော့။–သင့်အင်္ကျီကိုယူလို၍တရားတွေ့သောသူ
အား သင့်ဝတ်လုံကိုလည်း ယူစေခြင်းငှါ အခွင့်
၄၁ ပေးဦးလော့။– အကြင်သူသည်သင့်ကို အနိုင်ပြု
၍ ခရီးတတိုင်သွားစေ၏၊ ထိုသူနှင့်တကွ နှစ်တိုင်
၄၂ သွားဦးလော့။–တောင်းသောသူအား ပေးလော့၊
ချေးငှါးလိုသောသူကိုလည်း မငြင်းမပယ်နှင့်။
၄၃ ကိုယ်နှင့်စပ်ဆိုင်သောသူကိုချစ်လော့၊ ရန်သူ
ကိုမုန်းလော့ဟူသော ပညတ်စကားကို သင်တို့
ကြားရပြီ။– ငါပညတ်သည်ကား၊ သင်တို့သည်
ကောင်းကင်ဘုံ၌ ရှိတော်မူသော သင်တို့ အဘ၏
သား ဖြစ်ခြင်းငှါ၊ သင်တို့၏ရန်သူတို့ကို ချစ်
ကြလော့၊ သင်တို့ကို ကျိန်ဆဲသော သူတို့အား
မင်္ဂလာပေးကြလော့၊ သင်တို့ကို မုန်းသော သူတို့
အားကျေးဇူးပြုကြလော့၊ သင်တို့ကိုနှောင့်ရှက်
ညှဉ်းဆဲ သော သူတို့ အ ဖို့ ဘုရား သခင် ကို ဆု
၄၅ တောင်းကြလော့။– အကြောင်းမူကား၊ ကောင်း
ကင်ဘုံ၌ရှိတော်မူသောသင်တို့အဖသည်ကောင်း
သောသူ၊ မကောင်းသော သူတို့အပေါ်၌ ကိုယ်
တော်၏ နေကို ထွက် စေ တော် မူ၏၊ ဖြောင့်မတ်
သော သူ၊ မ ဖြောင့် မတ် သော သူတို့ အပေါ်၌
၄၆ မိုဃ်းကို ရွာစေတော်မူ၏။– သင်တို့ကိုချစ်သော
သူတို့အားသာ ချစ်တုံ့ပြုလျှင် အဘယ်ကျေးဇူး
တင်သနည်း။ အခွန်ခံသူတို့ပင် ဤမှုလေးကိုပြု
၄၇ ကြသည်မဟုတ်လော။– အဆွေအမျိုးတို့အား
သာလေသာကဝတ်ပြုလျှင်အဘယ်သို့ထူးခြားသ
နည်း။ သာသနာပလူတို့ပင်ထိုအတူ ပြုကြသည်
၄၈ မဟုတ်လော။– ထို့ကြောင့်၊ ကောင်းကင်ဘုံ၌
ရှိတော် မူသော သင်တို့ အဖသည် စုံလင်တော်မူ
သည်နည်းတူ၊ သင်တို့သည်လည်း စုံလင်ခြင်း
ရှိကြလော့။

## ၆

၁ လူများတို့ မြင်စေခြင်းငှါ ကိုယ်သီလ အကျင့်
ကိုသူ့ရှေ့မှောက်၌မကျင့်မည်အကြောင်း၊ သတိ
ပြုကြလော့။ သို့မဟုတ်၊ ကောင်းကင်ဘုံ၌ရှိတော်
မူသော သင်တို့ အဖထံမှ အကျိုးကို မခံမရကြ။–
၂ ထို့ကြောင့်၊ သင်သည်အလှူဒါနကို ပေးသောအ
ခါ လျှို့ဝှက်သောသူတို့သည်လူများ၏အချီးအမွမ်း
ကိုခံလို၍၊ ပွဲသဘင်ထမ်းခရီး၌ မိမိတို့ရှေ့မှာတံ
ပိုးခရာမှုတ်စေသည်နည်းတူ မပြုနှင့်၊ ငါအမှန်
ဆိုသည်ကား၊ ထိုသူတို့သည်မိမိတို့အကျိုးကိုရ
၃ ကြပြီ။– သင်သည်အလှူဒါနကို ပေး သောအခါ
ပေးကြောင်းကို မထင်ရှား စေခြင်းငှါ၊ လက်ျာ
လက် ပြုသည် အမှုကို လက်ဝဲ လက်မှ မသိစေ
၄ နှင့်။–မထင်ရှားသောအရာကို မြင်တော်မူသော
သင်၏ အဖ သည် အကျိုး ကို ထင် ရှား စွာ ပေး
တော်မူလတံ့။
၅ သင်သည်ဆုတောင်းပဌနာပြုသောအခါ လျှို့
ဝှက်သောသူတို့နည်းတူ မပြုနှင့်၊ ထိုသူတို့သည်
လူများတို့ရှေ့မှာ ထင်ရှား စေခြင်းငှါ၊ ပွဲသဘင်
ထမ်းဆုံ ထမ်းဝတို့၌ ရပ်လျက် ဆုတောင်း ခြင်း
ငှါ အလိုရှိကြ၏၊ ငါအမှန်ဆိုသည်ကား၊ ထိုသူတို့
၆ သည် မိမိတို့အကျိုးကိုခံရကြ၏။– သင်သည်ဆု
တောင်းသောအခါ အိတ်ညံ့ရာအခန်းသို့ဝင်၍
တံခါးကိုပိတ်ပြီးမှ၊ မထင်ရှားသော အရပ်၌ရှိ

တော်မူသောသင်၏အဖကို ဆုတောင်းလော့၊ မ
ထင်ရှားသော အရာကို မြင်တော်မူသော သင်၏
အဖသည် အကျိုးကိုထင်ရှားစွာ ပေးတော်မူလ
၇ တံ့။–သင်တို့သည်ဆုတောင်းသောအခါသာသ
နာပလူနည်းတူ၊ အချည်းနှီးသောစကားဖြင့်အ
ထပ်ထပ်မမြွက်ကြနှင့်၊ ထိုသူတို့သည် များစွာ
သောစကားအားဖြင့်မိမိတို့အလိုပြည့်စုံမည်ထု
၈ ထင်မှတ်ကြ၏။– ထိုသူတို့နည်းတူမပြုကြနှင့်၊အ
ကြောင်းမူကား၊ သင်တို့ အလိုရှိသမျှတို့ကို သင်
၉ တို့မတောင်းမှီ သင်တို့အဖ သိ တော် မူ၏။– ထို
ကြောင့်၊ သင်တို့ ဆုတောင်းရမည်မှာ၊ ကောင်း
ကင်ဘုံ၌ရှိတော်မူသောအကျွန်ုပ်တို့အဖ၊ ကိုယ်
တော်၏နာမတော်အားရိုသေလေးမြတ်ခြင်းရှိပါ
၁၀ စေသော။– နိုင်ငံတော် တည်ထောင်ပါစေသော၊
အလိုတော်သည် ကောင်းကင်ဘုံ၌ ပြည့်စုံသကဲ့
၁၁ သို့မြေကြီးပေါ်မှာပြည့်စုံပါစေသော။– အသက်
မွေးလောက်သောအစာကို အကျွန်ုပ်တို့အား ထ
၁၂ နေ့ ပေးသနားတော်မူပါ။– သူတပါး သည် အ
ကျွန်ုပ် တို့ ကို ပြစ် မှား သော အပြစ် များ ကို အ
ကျွန်ုပ်တို့သည်လွှတ်သကဲ့သို့၊ အကျွန်ုပ်တို့၏အ
၁၃ ပြစ်များကိုလွှတ်တော်မူပါ။–အပြစ်သွေးဆောင်
ရာသို့မလိုက်မပါစေဘဲ၊ မကောင်းသောအမှုအ
ရာမှလည်းကယ်နှုတ်တော်မူပါ၊ အစိုးပိုင်သော
အခွင့်နှင့် ဘုန်းတန်ခိုးအာနုဘော်သည် ကမ္ဘာ
အဆက်ဆက် ကိုယ်တော်၌ ရှိပါ၏၊ အာမင်၊ ဟု
၁၄ ဆုတောင်းကြလော့။–သင်တို့သည်သူတပါးတို့
၏အပြစ်ကိုလွှတ်လျှင်၊ ကောင်းကင်ဘုံ၌ရှိတော်
မူသော သင်တို့ အဖ သည် သင်တို့၏ အပြစ်ကို
၁၅ လွှတ်တော်မူမည်။–သင်တို့သည် သူတပါးတို့၏
အပြစ်ကိုမလွှတ်လျှင်၊ သင်တို့အဖသည်သင်တို့
၏အပြစ်ကိုလွှတ်တော်မမူ။
၁၆ သင်တို့သည် အစာရှောင်ခြင်းအကျင့်ကိုကျင့်
သောအခါ လျှို့ဝှက် သော သူတို့ နည်းတူ၊ မျက်
နှာညှိုးငယ်ခြင်း မရှိကြနှင့်၊ ထိုသူတို့သည် မိမိ
တို့အစာရှောင်သည်ကိုလူများတို့ရှေ့မှာထင်ရှား
စေခြင်းငှါ၊ မိမိ တို့မျက်နှာကို ဖျက်တတ်ကြ၏။–
၁၇ ငါအမှန်အကန်ဆိုသည်ကား၊ ထိုသူတို့သည်မိမိ
၁၈ တို့အကျိုးကိုခံရကြ၏။– သင်သည်အစာရှောင်
သောအခါ အစာ ရှောင်သည်ကို လူများတို့ ရှေ့
မှာ မထင်ရှားစေဘဲ၊ မထင်ရှားသော အရပ်၌ရှိ
တော် မူသော သင်တို့ အဖ ရှေ့တော်၌ သာ ထင်
ရှားစေခြင်းငှါ၊ ခေါင်းကို လိမ်းကျံလော့၊ မျက်
နှာကိုလည်း သစ်လော့၊ မထင်ရှားသောအရာ
ကိုမြင်တော်မူသောသင်တို့အဖသည်အကျိုးကို
ထင်ရှားစွာပေးတော်မူလတံ့။
၁၉ ထံရွေး၊ ပိုးရွမျက်ဆီး၍၊ သူခိုးထွင်းဖောက်ခိုး
ယူရာ မြေကြီးပေါ်မှာ ဘဏ္ဍာကို မဆည်းဖူးကြ
၂၀ နှင့်။–ထံရွေး၊ ပိုးရွမဖျက်ဆီး၍၊ သူခိုးမထွင်းမ
ဖောက်မခိုးမယူရာ ကောင်းကင်ဘုံ၌ ဘဏ္ဍာကို
၂၁ ဆည်းဖူးကြလော့။–အကြောင်းမူကား၊ အကြင်
အရပ်၌ သင်တို့၏ ဘဏ္ဍာရှိ၏၊ ထိုအရပ်သို့သင်
၂၂ တို့၏ စိတ်နှလုံးရောက်တတ်၏။– မျက်စိကား၊
ကိုယ်၏ ဆီမီး ဖြစ်၏၊ ထိုကြောင့်၊ မျက်စိ ကြည်
၂၃ လင်လျှင် တကိုယ်လုံး လင်းလိမ့်မည်။– မျက်စိ
မြေးရှုတ်လျှင်တကိုယ်လုံးမိုက်လိမ့်မည်။ သင်၏
အလင်း သော်ကား၊ မှောင်မိုက်ဖြစ်လျှင်၊ ထိုအ
မိုက်သည်အလွန်မိုက်စွတကား။
၂၄ အထယ်သူမျှ သခင် နှစ်ဦး အစေကို မခံနိုင်၊
သခင်တဦးကို မုန်း၍ တဦးကိုချစ်မည်၊ သခင်တ
ဦးကို မှီခို၍တဦးကိုမခန့်မညားပြုမည်၊ သင်တို့
သည်ဘုရားသခင်၏ အစေကိုဎင်၊ လောကီစည်း
၂၅ စိမ်၏ အစေကိုဎင်မခံနိုင်ကြ။– ထိုကြောင့်ငါဆို
သည်ကား၊ အဘယ်သို့ စားသောက်ရမည်ဟု၊
အသက်အဖို့မစိုးရိမ်ကြနှင့်၊ အဘယ်သို့ဝတ်ရ
မည်ဟု၊ကိုယ်အဖို့မစိုးရိမ်ကြနှင့်၊ အစာထက်
အသက်မြတ်သည် မဟုတ်လော၊ အဝတ်ထက်
၂၆ ကိုယ်မြတ်သည် မဟုတ်လော။– မိုဃ်းကောင်း
ကင်၌ ကျင်လည်သောငှက်များကို ကြည့်ရှုဆင်
ခြင်ကြလော့၊ ထိုငှက်တို့သည်မျိုးစေ့ကိုမမျိုးစ
ကြ၊ စပါးကိုမရိတ်၊ ကျီ၌ မစုမသွင်း။ သို့သော်
လည်း၊ ကောင်းကင်ဘုံ၌ ရှိတော်မူသော သင်တို့
အဖသည် ထိုသူတို့ကိုကျွေးမွေးတော်မူ၏၊ ထိုငှက်
တို့ထက်သင်တို့သည် အလွန်မြတ်သည် မဟုတ်
၂၇ လော။– အဘယ်သူသည် စိုးရိမ်ခြင်းအားဖြင့်
မိမိ အသက်တာကို တတောင်ခန့်မျှ တိုးပွားစေ
နိုင်သနည်း။
၂၈ အဝတ် အဖို့၌ အဘယ် ကြောင့် စိုးရိမ် ရသ
နည်း၊ တောနှင်းပင် တို့သည် အဘယ်သို့သော
အားဖြင့် ကြီးပွားသည်ကို ဆင်ခြင်ထောက်ရှု
ကြလော့၊ ထိုအပင်တို့သည်အလုပ်ထဦးမလုပ်၊
၂၉ ချည်ဖြစ်စေခြင်းငှါမငင်မဝင့်။–သို့သော်လည်း၊
ဘုန်းကြီးသောရှောလမုန်မင်းကြီး၏အဝတ်သည်
ထိုအပင်တပင်မျှ၏ အဝတ်ကို မမှီဟု ငါဆို၏။–
၃၀ ယုံကြည်ခြင်းအားနည်းသောသူတို့၊ ထရေ့ အသက်ရှင်

လျှောက်နက်ဖန်မီး၌ထည့်ရောက်သောတောမြက်
ပင်ကို၊ဘုရားသခင်သည်ထိုသို့သောအဝတ်နှင့်
စုံလွှမ်းတော်မူလျှင် ထိုမျှမက၊ သင်တို့ကို အ
၃၀ ဝတ်နှင့် စုံလွှမ်းတော်မူမည်မဟုတ်လော။– ထို
ကြောင့်၊ အဘယ်သို့ စားသောက်ရအံ့နည်း၊ အ
ဘယ်သို့ဝတ်ရအံ့နည်းဟူ၍ မစိုးရိမ်ကြနှင့်။ထို
အရာ များ ကို သာ သနာ ပလူ တို့ သည် ရှာဖွေ
၃၂ တတ်ကြ၏။-ထိုအရာများကိုသင်တို့သည်အသုံး
လိုကြောင်းကို၊ ကောင်းကင်ဘုံ၌ရှိတော်မူသော
၃၃ သင်တို့အဘသည် သိတော်မူ၏။– ဘုရားသခင်၏
နိုင်ငံတော်နှင့် ဖြောင့်မတ်ခြင်း တရား တော်ကို
ရှေဦးစွာရှာကြလော့။နောက်မှထိုအရာများကို
၃၄ ထပ်၍ပေးတော်မူလတ့်။– ထိုကြောင့်၊နက်ဖန်အ
ဘို့ မစိုးရိမ်ကြနှင့်။ နက်ဖန်နေ့သည် မိမိ အဘို့စိုး
ရိမ်လိမ့်မည်။ယနေ့၌ရှိသောမကောင်းမသင့်
သောအရာသည်ယနေ့၌လောက်ပေ၏။

## ၇

၁ သင်တို့သည် စစ်ကြောဆုံးဖြတ်ခြင်းနှင့် ကင်း
လွတ်ရမည် အကြောင်း၊ သူတပါး၏ အမှု၌စစ်
၂ ကြောဆုံးဖြတ်ခြင်းကိုမပြုကြနှင့်။– သင်တို့သည်
အကြင်တရားအတိုင်း သူတပါးကို စီရင်ကြ၏၊
ထိုတရား အတိုင်း စီရင်ခြင်းကို ခံရကြမည်။ အ
ကြင်ချိန်၊ တင်း၊ ပမာဏနှင့် သူတပါးအားပေး
၃ ၏၊ထိုပမာဏအတိုင်းကိုယ်ခံရကြမည်။– ကိုယ်
မျက်စိ၌ရှိသောတံကျင်ကို မအောင်းမေ့ဘဲ၊ ညီ
အစ်ကိုမျက်စိ၌ ရှိသောငြောင့်ငယ်ကို အဘယ်
၄ ကြောင့်ကြည့်ရှုသနည်း။-ကိုယ်မျက်စိ၌တံကျင်
ရှိလျက်ပင်၊ ညီ အစ်ကိုအား သင်၏ မျက်စိ၌ ရှိ
သောငြောင့်ငယ်ကို ထုတ်ပါရစေဟု အဘယ်သို့
၅ ဆိုဟနည်း။– လျှို့ဝှက်သောသူ၊ ကိုယ်မျက်စိ၌ရှိ
သော တံကျင် ကို ရှေ့ဦးစွာ ထုတ် ပြစ် လော့၊
နောက်မှ ညီအစ်ကိုမျက်စိ၌ ရှိသောငြောင့်ငယ်
ကိုထုတ်ပြစ်ခြင်းငှါရှင်းလင်းစွာမြင်လိမ့်မည်။
၆ မြင့်မြတ်သောအရာကိုခွေးတို့အားမပေးကြနှင့်၊
ပုလဲရတနာတို့ကိုဝက်တို့ ရှေ့မှာ မချမထားကြ
နှင့်။သို့ပြုလျှင်၊ ထိုအရာတို့ကို ကျော်နင်း၍သင်
တို့ကိုလှည့်လျှောက်ကိုက်ဖြတ်ကြလိမ့်မည်။
၇ တောင်းကြလော့၊ တောင်းလျှင် ရမည်။ ရှာ
ကြလော့၊ ရှာလျှင်တွေ့မည်။တံခါးကိုခေါက်ကြ
၈ လော့၊ ခေါက်လျှင်ဖွင့်မည်။– တောင်း သောသူ
မည်သည်ကား ရ၏၊ ရှာသောသူသည် တွေ့၏၊
ခေါက် သော သူအား သည်၊ တံခါး ကို ဖွင့် ၏။–
၉ သား သည် မုန့်ကို တောင်းလျှင် မိမိ သား အား
၁၀ ကျောက်ကိုပေးမည်သူ၊– ငါးကို တောင်းလျှင်၊
မြွေကိုပေးမည်သူတစုံတယောက်မှ သင်တို့တွင်
၁၁ ရှိသလော။– သင်တို့သည် အဆိုးဖြစ်လျက်ပင်
ကိုယ်သား၊တို့အား ကောင်းသော အရာကို ပေး
တတ်လျှင်၊ထိုမျှမက ကောင်းကင်ဘုံ၌ရှိတော်မူ
သော သင်တို့အဘသည် ဆုတောင်း သော သူတို့
အား ကောင်း သော အရာကို သာ၍ ပေးတော်မူ
၁၂ မည်မဟုတ်လော။– သင်တို့သည်ကိုယ်၌သူတ
ပါးပြုစေလိုသမျှအတိုင်းသူတပါး၌ပြုကြလော့။
ဤပညတ် ကား၊ ပညတ္တိ ကျမ်း နှင့် အနာဂတ္တိ
ကျမ်းတို့၏ အချုပ် အချာ ပင် ဖြစ် သ တည်း။–
၁၃ ကျဉ်းသောတံခါးကိုဝင်ကြလော့။ပျက်စီးခြင်း
သို့ရောက်သောလမ်းနှင့်တံခါးသည်ကျယ်ဝန်း
သည်ဖြစ်၍၊ ဝင်သော သူတို့သည် များကြ၏။–
၁၄ အသက်ရှင်ခြင်းသို့ ရောက်သောလမ်းနှင့်တံခါး
သည် အလွန် ကျဉ်း မြောင်း သည် ဖြစ်၍၊ တွေ့
ဝင်သောသူတို့သည်နည်းကြ၏။
၁၅ အတွင်း၌ ကျမ်းတမ်း သော တော ခွေး ဖြစ်
လျက်၊ သိုးရေကိုချုံ၍သင်တို့ရှိရာသို့လာသော
မိစ္ဆာပရောဖက်တို့ကိုသတိနှင့်ရှောင်ကြလော့။–
၁၆ ထိုသူတို့၏အကျင့်ကိုထောက်၍ သူတို့၏သဘော
ကို သိကြလိမ့်မည်။ ဆူးပင်၌ စပျစ်သီးကိုဆွတ်
တတ်သလော။ ဆူးလေပင်၌ သင်္ဘောသဖန်းသီး
၁၇ ကို ဆွတ်တတ်သလော။– ကောင်းသော အပင်
သည် ကောင်းသောအသီး၊ မကောင်းသော အ
ပင်သည်မကောင်းသောအသီးကိုသီးတတ်၏။–
၁၈ ကောင်းသောအပင်သည်မကောင်းသောအသီး၊
မကောင်းသောအပင်သည် ကောင်းသောအသီး
၁၉ ကိုမသီးနိုင်။– ကောင်းသော အသီး မသီးသော
အပင်ရှိသမျှတို့ကိုခုတ်လှဲ၍မီးထဲသို့ချထိုးတ
၂၀ တတ်၏။-သို့ဖြစ်လျှင်၊ထိုပရောဖက်တို့၏အကျင့်
ကို ထောက်သော်၊ သူတို့၏သဘောကို သိရကြ
လိမ့်မည်။
၂၁ သခင်၊ သခင်ဟု ငါ့ကိုလျှောက်သော သူတိုင်း
ကောင်းကင်နိုင်ငံတော်သို့ဝင်ရလိမ့်မည်မဟုတ်။
ကောင်းကင်ဘုံ၌ ရှိတော်မူသော ငါ့ခမည်းတော်
၏အလိုကို ဆောင် သော သူသာလျှင် ဝင်ရလိမ့်
၂၂ မည်။– ထိုနေ့၌ကား၊ သခင်၊သခင်၊အကျွန်ုပ်တို့
သည်ကိုယ်တော်အခွင့်နှင့်ဟောပြောပါသည်မဟုတ်
လော။ ကိုယ်တော်အခွင့်နှင့်နတ်ဆိုးတို့
ကိုနှင်ထုတ်ပါပြီမဟုတ်လော။ ကိုယ်တော်အ

နွှင်နှင့်ရှားနွှသောတန်ခိုးတို့ကိုပြုပါပြီမဟုတ်
သောလော၊ ဟုများသောသူတို့သည် လျှောက်ကြ
၂၃ ထိမ့်မည်။-ထိုသို့လျှောက်ကြသောအခါ၊သင်တို့
ကိုငါအလျှင်းမသိ၊ အဓမ္မအမှုကိုပြုသောသူတို့၊
ငါ့ထံမှထွက်ကြလော့၊ထိုသူတို့အား အတည့်အလင်း
ငါပြောမည်။
၂၄ အကြင်သူသည် ငါဟောပြောသောဤစကား
ကိုကြား၍နားထောင်၏၊ထိုသူသည်ကျောက်ပေါ်
မှာ အိမ်ဆောက်သော ပညာရှိ နှင့် တူကြောင်း
၂၅ ကိုငါပုံပြမည်။-မိုဃ်းရွာ၍ရေစီးသည်နှင့်၊လေ
လာ၍ ထိုအိမ်ကို တိုက်သည် ရှိသော်၊ ကျောက်
၂၆ ပေါ်မှာ တည်သောကြောင့် မပြိုမလဲနေ၏။- အ
ကြင် သူသည် ငါ ဟောပြောသော ဤ စကားကို
ကြား၍နားမထောင်ဘဲနေ၏၊ထိုသူသည်သဲပေါ်
မှာအိမ်ဆောက်သောလူမိုက် နှင့် တူကြောင်းကို
၂၇ ငါပုံပြမည်။- မိုဃ်းရွာ၍ ရေစီးသည်နှင့်၊ လေ
လာ၍ထိုအိမ်ကိုတိုက်သောအခါ၊ကြီးစွာသော
ပြိုလဲခြင်းသို့ရောက်လေသည်ဟုဟောတော်မူ၏။
၂၈ ထိုဒေသနာတော်ကိုယေရှုဟောတော်မူသည်
အဆုံး၌ပရိသတ်အပေါင်းတို့သည်ရှုစွဲကြ၏။
၂၉ ပေးတော် မူခြင်းကို အလွန် အံ့ဩကြ၏။- အ
ကြောင်းမူကား၊ ကျမ်းပြုဆရာနည်းတူ မဟုတ်၊
အခိုးရသောသူနည်းတူ ဆုံးမြဲဟောပေးတော်
မူ၏။

၈

၁ ကိုယ်တော် သည် တောင် ပေါ်က ဆင်းကြွ
တော်မူလျှင်၊များစွာသောလူအပေါင်းတို့သည်
၂ နောက် တော်သို့ လိုက်ကြ၏။- ထိုအခါ နူနာစွဲ
သောသူတယောက်သည်ချဉ်းကပ်လျက်၊သခင်၊
အလိုတော်ရှိလျှင် ကျွန်တော်ကိုသန့်ရှင်းစေနိုင်
၃ တော်မူသည်ဟု လျှောက် လေ၏။- ယေရှု က
လည်း၊ငါအလိုရှိ၏၊ သန့်ရှင်းခြင်းသို့ရောက်စေ
ဟုမိန့်တော်မူလျက်၊ လက်တော်ကိုဆန့်၍ထိုသူ
ကိုတို့တော်မူ၏၊ထိုခဏချင်းတွင်နူနာပျောက်၍
၄ သန့်ရှင်းခြင်းသို့ရောက်လေ၏၊ ယေရှုကလည်း၊
သင်သတိပြု၊ ဤအကြောင်းကို အဘယ်သူအား
မျှ မပြောနှင့်၊ ယဇ်ပုရောဟိတ် ထံသို့ သွား၍
ကိုယ်ကို ပြလော့၊ သူတပါး၌ သက်သေ ဖြစ်စေ
ခြင်းငှါ၊ မောရှေ မိန့်မှာထားသော ပူဇော် သ
ကာကိုဆက်လော့ဟုမိန့်တော်မူ၏။
၅ ထိုနောက်မှကပေရနေဟုံမြို့သို့ကြွဝင်တော်မူ
လျှင်၊ တပ်မှူး တယောက် သည် အထံတော်သို့
၆ လာ၍၊- အ ရှင်၊ ကျွန် တော် ၏ ငယ်သား တ
ယောက်သည်ထုံကျင်သောအနာနှင့်ပြင်း
စွာခံရ၍၊ အိမ်တွင်တုံးလုံးနေပါသည်ဟုလျှောက်
၇ ပန်လေ၏။- ယေရှုကလည်း၊ငါလာ၍ချမ်းသာ
၈ ပေးမည်ဟုမိန့်တော်မူလျှင်၊-တပ်မှူးကား၊သခင်၊
ကျွန်တော်၏ အိမ်မိုး အောက်သို့ ကြွဝင်တော်မူ
ခြင်း ကျေးဇူးတော်ကို ကျွန် တော် မခံထိုက်ပါ၊
အမိန့်တော်တခွန်းရှိလျှင်ကျွန်တော်၏ငယ်သား
၉ သည် ချမ်းသာ ရ ပါလိမ့် မည်။- ဥပမာကား၊
ကျွန်တော်သည် မင်းအောက်၌ ထွန်ခံသော သူ
ဖြစ်သော်လည်း၊စစ်သူရဲ များကို အုပ်စိုး၍၊တဦး
ကိုသွားလော့ဟုဆိုလျှင်သွားပါ၏၊ တဦးကိုလာခဲ့
လော့ ဆို လျှင် လာ ပါ ၏၊ ကျွန် ကိုလည်း ဤ အမှု
ကို လုပ်လော့ဟု ဆို လျှင် လုပ်ပါ ၏ ဟု တပ်မှူး
၁၀ လျှောက်လေ၏။-ထိုစကားကိုယေရှုသည်ကြား
လျှင်အံ့ဩခြင်းရှိ၍၊ ငါအမှန်ဆိုသည်ကား၊
ဤမျှလောက်သောယုံကြည်ခြင်းကို ဣသရေလ
၁၁ အမျိုး၌ပင် ငါမတွေ့ဘူးသေး။- ငါ ဆိုပြန်သည်
ကား၊ လူများတို့သည် အရှေ့အရပ်၊ အနောက်
အရပ်မှလာ၍ ကောင်းကင်နိုင်ငံ တော် ၌ အာဗြ
ဟံ၊ ဣဇာက်၊ ယာကုပ် တို့နှင့်တကွ လျောင်းရ
၁၂ ကြလတ္တံ့။-နိုင်ငံတော်သားတို့သည်ထဲ့ပိုကျွေး
ခြင်း၊ထိသွားခဲကြိတ်ခြင်းရှိရာ၊ပြင်အရပ်၊မှောင်
မိုက်ထဲသို့ နှင်ချခြင်းကိုခံရကြလတ္တံ့ဟု၊ နောက်
တော်သို့ လိုက်သော သူတို့အား မိန့်တော် မူပြီး
၁၃ မှ၊-တပ်မှူးအား၊သင်သွားလော့၊ယုံကြည်သည်
နှင့်အညီသင်၌ဖြစ်စေဟု မိန့်တော်မူ၏၊ ထိုခဏ
ချင်းတွင် သူ၏ငယ်သားသည်အနာရောဂါပျောက်
၍ချမ်းသာခြင်းသို့ရောက်လေ၏။
၁၄ ထိုနောက်မှယေရှုသည်ပေတရုအိမ်သို့ကြွ၍၊
ပေတရု ၏ ယောက္ခမ သည် ဖျားနာစွဲလျက် တုံး
၁၅ လုံးနေသည်ကိုတွေ့မြင်တော်မူ၏။- ထိုမိန်းမ၏လက်
ကို တို့တော်မူလျှင်၊ သူသည် အဖျားပျောက်သ
ဖြင့်ထ၍ဧည့်သည်ဝတ်ကိုပြုလေ၏။
၁၆ ညဦးယံ၌ နတ်ဆိုးစွဲသောသူအများတို့ကို အ
ထံတော်သို့ဆောင်ခဲ့၍နှုတ်တော်မြွက်ကာမျှနှင့်
ထိုနတ်တို့ကိုနှင်ထုတ်တော်မူ၏၊နာသောသူရှိသ
၁၇ မျှတို့ကိုသက်သာစေတော်မူ၏။-ထိုအကြောင်း
အရာမူကား၊ သူသည် အကျွန်ုပ်တို့အနာရောဂါ
ဝေဒနာများကိုယူတင်ဆောင်ရွက်လေသည်ဟု၊
ပရောဖက် ဟေရှာယ ဟော သူ့ သော စကား
ပြည့်စုံမည်အကြောင်းဖြစ်သတည်း။

၁၈ များစွာသောလူအပေါင်းတို့သည်ကိုယ်တော်
ကိုဝန်းရံလျက် နေကြသည်ကိုမြင်တော်မူလျှင်၊
ကမ်းတဖက်သို့ကူးမည်အကြောင်းအမိန့်တော်
၁၉ ရှိ၏။– ထိုအခါ ကျမ်းပြုဆရာ တယောက်သည်
လာ၍၊အရှင်ဘုရားကိုယ်တော်ကြွတော်မူရာအ
ရပ်ရပ်သို့ အကျွန်ုပ်လိုက်ပါမည်ဟုလျှောက်လေ
၂၀ ၏။–ယေရှုကလည်း၊မြေခွေးသည်မြေတွင်းရှိ၏။
မိုဃ်းကောင်းကင်၌ ကျင်လည်သောငှက်သည်
နားနေရာအရပ်ရှိ၏။ လူသားမူကား၊ခေါင်းချရာ
၂၁ မျှမရှိဟု မိန့်တော်မူ၏။– အခြားသော တပည့်
တော်ကလည်း၊သခင်၊အကျွန်ုပ်အဘကိုရှေဦးစွာ
သွား၍ သင်းဂြိုဟ်ရသောအခွင့်ကိုပေးတော်မူ
၂၂ ပါဟုလျှောက်လေ၏။– ယေရှုကလည်း၊ငါနောက်
သို့လိုက်လော့။ လူသေတို့သည်မိမိလူသေတို့ကို
သင်းဂြိုဟ်ပါလေစေဟုမိန့်တော်မူ၏။
၂၃ ထိုအခါ လှေထဲသို့ဝင်တော်မူ၍တပည့်တော်
တို့သည်လိုက်ကြ၏။ ဒိုင်၌လှိုင်းတံပိုးပြင်းစွာ
၂၄ ထ၍ လှေကို လွှမ်းလေ၏။– ကိုယ်တော် သည်
၂၅ ကျိန်းစက် ၍ နေတော်မူ၏။– တပည့်တော်တို့
သည် ချဉ်းကပ်၍ ကိုယ်တော်ကို နှိုးပြီးလျှင်၊
သခင်၊ အကျွန်ုပ်တို့သည် ပျက်စီးခြင်းသို့ရောက်
ပါ၏။ ကယ်မတော်မူပါဟု လျှောက်ကြသော်၊–
၂၆ ကိုယ်တော်က၊ ယုံကြည်အားနည်းသောသူတို့၊
အဘယ်ကြောင့် ကြောက်တတ်သနည်းဟု မေး
တော်မူပြီးလျှင်၊ ထ၍ လေနှင့်ပင်လယ်ကို ဆုံးမ
၂၇ တော်မူသဖြင့်အလွန်သာယာလေ၏။–ထိုလူတို့
ကလည်း၊ ဤသူကား အဘယ်သို့သောသူနည်း။
လေနှင့်ပင်လယ်သည်သူ၏စကားကိုနားထောင်
ပါသည်တကားဟုအံ့ဩကြ၏။
၂၈ ကမ်းတဖက် ဂါဒရ ပြည်သို့ ရောက် တော်မူ
သောအခါ၊ နတ်ဆိုး စွဲသောလူ နှစ်ယောက်တို့
သည်ထိုလမ်းကိုအဘယ်သူမျှမသွား၊ နိုင်အောင်
အလွန်ကြမ်းကြုတ်စွာပြုလျက်၊ သင်းချိုင်းတစ
ပြင်မှ ထွက်လာ၍ ကိုယ်တော်ကို ခရီးဦးကြိုပြု
၂၉ ပြီးလျှင်၊–ဘုရားသခင်၏သားတော်ယေရှု၊ကိုယ်
တော်သည် အကျွန်ုပ်တို့နှင့် အဘယ်သို့ ဆိုင်သ
နည်း။ အချိန်မရောက်မှီအကျွန်ုပ်တို့ကိုညှဉ်းဆဲ
ခြင်းငှါ ကြွလာတော်မူသလောဟု အော်ဟစ်၍
၃၀ လျှောက် ကြ၏။– ထိုသူတို့နှင့် မနီးမဝေးသော
အရပ်၌ များစွာသော ဝက်အစုသည် ကျက်စား
လျက်ရှိ၏။–နတ်ဆိုးတို့လည်း၊ကိုယ်တော်သည်
အကျွန်ုပ်တို့ကိုနှင်ထုတ်လျှင်၊ထိုဝက်အစုထဲသို့
ဝင်ရပါမည်အကြောင်း အခွင့်ပေးတော်မူပါဟု
၃၁ တောင်းပန်ကြသော်၊–သွားကြဟုမိန့်တော်မူ၏။
နတ်ဆိုး တို့သည်ထွက်၍ ဝက်ထဲသို့ဝင်သဖြင့်
ဝက်အစု ရှိသမျှသည် ဒိုင် ကမ်းစောက်ကို တ
၃၂ ဟုန်တည်း ပြေးဆင်း၍ ရေ၌ သေကြ၏။– ဝက်
ကျောင်းသော သူတို့သည်လည်းပြေး၍ မြို့ထဲသို့
ဝင်ပြီးလျှင်၊နတ်ဆိုးစွဲသောသူတို့၏အကြောင်း
မှစ၍ ဖြစ်လေသမျှတို့ကို ကြားပြောကြသော်၊–
၃၃ တမြို့လုံးသည်း ယေရှုကို တွေ့အံ့ သောငှါ ထွက်
လာကြ၏။ ကိုယ်တော်ကို တွေ့မြင်လျှင်၊ မိမိတို့
ပြည် က ထွက် သွား တော် မူ မည် အကြောင်း
တောင်းပန်ကြ၏။

၉

၁ ထိုအခါကိုယ်တော်သည်လှေစီး၍ကူးပြန်သ
၂ ဖြင့် မိမိမြို့သို့ရောက်တော်မူ၏။– လက်ခြေသေ၍
အိပ်ရာပေါ်မှာ တုံးလုံးနေသော သူတယောက်
ကိုအထံတော်သို့ဆောင်ခဲ့ကြ၏။ ယေရှုသည်ထို
သူတို့၏ယုံကြည်ခြင်းကိုမြင်လျှင် လက်ခြေသေ
သောသူအား၊ငါ့သား၊မစိုးရိမ်နှင့်။ သင်၏အပြစ်
၃ ကို လွှတ်စေပြီဟု မိန့်တော်မူ၏။– ကျမ်းပြုဆရာ
အချို့တို့က၊ ဤသူသည် ဘုရားကို လွန်ကျူး၍
၄ ပြောသည်ဟုထင်ကြ၏။–ယေရှုသည်ထိုသူတို့၏
စိတ်ကိုသိမြင်တော်မူလျှင်၊ သင်တို့သည်အဘယ်
ကြောင့် ငြူစူသောစိတ်ရှိကြသနည်း။– အဘယ်
စကားကိုသာ၍ ပြောလွယ်သနည်း။ သင်၏ အ
ပြစ်ကိုလွှတ်စေပြီဟုပြောလွယ်သလော။သင်ထ
၆ ၍လှမ်းသွားလော့ဟုပြောလွယ်သလော။– လူ
သားသည်မြေကြီးပေါ်မှာအပြစ်လွှတ်နိုင်သည်
ကိုသင်တို့သိစေခြင်းငှါ၊ထလော့။ ကိုယ်အိပ်ရာ
ကိုဆောင်၍ ကိုယ်အိမ်သို့သွားလော့ဟု၊ လက်
၇ ခြေသေသောသူအားမိန့်တော်မူ၏။–ထိုသူသည်
၈ လည်းထ၍ မိမိအိမ်သို့သွားလေ၏။– လူအစုအ
ဝေးတို့သည်မြင်လျှင် အံ့ဩခြင်းရှိ၍၊ လူတို့
အား ဤသို့သောအခွင့်ကိုအပ်ပေးတော်မူသော
ဘုရားသခင်၏ဂုဏ်တော်ကိုချီးမွမ်းကြ၏။
၉ ယေရှုသည်ထိုအရပ်မှကြွတော်မူလျှင်၊ မဿဲ
အမည်ရှိသော သူ တယောက်သည် အခွန်ခံရာ
ဇရပ်၌ထိုင်နေသည်ကိုမြင်သော်၊ငါနောက်သို့လိုက်
လော့ဟု မိန့်တော်မူ၏။ ထိုသူသည်လည်း ထ၍
၁၀ နောက်တော်သို့လိုက်လေ၏။– ထိုနောက်မှအိမ်
တွင်စားပွဲ၌ လျောင်းတော်မူစဉ်၊ အခွန်ခံသော
သူများနှင့်ဆိုးသောသူများတို့သည်လာ၍ကိုယ်

တော်မူသော တပည့်တော်တို့နှင့်တကွ စားပွဲ၌
၁၁ လျောင်းကြ၏၊— ဖာရိရှဲတို့သည်မြင်လျှင်တပည့်
တော်တို့အား၊ သင်တို့ဆရာသည်အခွန်ခံသော
သူ၊ ဆိုးသော သူတို့ နှင့် အတူ အဘယ် ကြောင့်
၁၂ စားသနည်း၊ ဟု ဆိုကြ၏၊— ယေရှုသည် ကြား
တော်မူလျှင်၊ ကျန်းမာသောသူတို့သည် ဆေးသ
မားကိုအလိုမရှိကြ၊ နာသောသူတို့သာလျှင် အ
၁၃ လိုရှိကြ၏၊— ယဇ်ပူဇော်ခြင်း၊ အကျင့်ထက် သ
နားခြင်း၊ ကရုဏာအကျင့်ကို ငါနှစ်သက်၏ ဟူ
သောကျမ်းစကားကို နားလည်ခြင်းငှါ၊ သင်တို့
သွား၍ သင်ကြလော့၊ ဖြောင့်မတ်သောသူတို့ကို
နောင်တသို့ ခေါ်ခြင်းငှါ ငါလာသည် မဟုတ်၊
ဆိုးသောသူတို့ကိုခေါ်ခြင်းငှါ ငါလာသတည်း
ဟုမိန့်တော်မူ၏၊
၁၄ ထိုအခါ ယောဟန်၏ တပည့် တို့သည် အထံ
တော်သို့ချဉ်းကပ်၍၊ အကျွန်ုပ်တို့နှင့်ဖာရိရှဲတို့
သည်အခါနေတထဲထဲ အစာရှောင်ကြသည်ဖြစ်၍၊
အဘယ်ကြောင့် ကိုယ်တော်၏ တပည့်တို့သည်
အစာမရှောင်ဘဲ နေကြပါသနည်းဟု လျှောက်ကြ
၁၅ ၏၊— ယေရှုကလည်း၊ မင်္ဂလာဆောင်လုလင်သည်
မိမိအပေါင်းအဖော်တို့နှင့်အတူရှိစဉ်အခါသူတို့
သည်မိတ်မသာ ညည်းတွား တတ်ကြသလော၊
မင်္ဂလာဆောင်လုလင်ကို သူ၏အပေါင်း အဖော်
တို့နှင့်ခွာ၍ ယူသွားသောအချိန်ကာလ ရောက်
လိမ့်မည်၊ ထိုအခါ သူတို့သည် အစာရှောင်ကြ
၁၆ လိမ့်မည်၊— အဝတ်ဟောင်းကိုအထည်သစ်နှင့်
ဖာလေ့မရှိ၊ထိုသို့ဖာလျှင်၊ဖာသောအထည်သည်
အဝတ်ဟောင်းကိုစား၍ အပေါက် ကျယ်တတ်
၁၇ ၏၊— ငှင်နည်း၊ ဟောင်းသောသားရေဘူး၌ အ
သစ်သောစပျစ်ရည်ကိုထည့်လေ့မရှိ၊ထိုသို့ထည့်
လျှင်၊ သားရေဘူးသည်စုတ်ကွဲသဖြင့်၊စပျစ်ရည်
သည်ယို၍ သားရေဘူးလည်း ပျက်စီး တတ်၏၊
အသစ်သော စပျစ်ရည်ကို အသစ်သော သားရေ
ဘူး၌ထည့်လေ့ရှိ၏၊ ထိုသို့ထည့်လျှင်၊နှစ်ပါးစ
လုံးမပျက်စီးဟုမိန့်တော်မူ၏၊
၁၈ ထိုစကားကိုမိန့်တော်မူစဉ်၊အရာရှိတယောက်
သည်လာ၍ပြပ်ဝပ်လျက်၊ အကျွန်ုပ်၏သမီးသည်
ယခုပင် သေဆဲရှိပါ၏၊ သို့သော်လည်း၊ ကိုယ်
တော်သည်ကြွ၍ သူ့အပေါ်၌လက်ကိုတင်တော်
မူလျှင် အသက်ရှင်ပါလိမ့်မည်ဟု လျှောက်၏၊—
၁၉ ယေရှုသည်ထ၍တပည့်တော်တို့နှင့်အတူထိုသူ
၂၀ နောင်သို့ လိုက် တော် မူ၏၊— ထိုအခါ အဘယ်
နှစ်နှစ် ပတ်လုံး သွေး အန်နာ စွဲ သော မိန်းမ တ
၂၁ ယောက်က၊— ငါသည် အဝတ်တော်ကိုသာ ထိ
လျှင်ချမ်းသာရမည်ဟုမိတ်ထင်နှင့်၊နောက်တော်
သို့ ချဉ်းကပ်၍ အဝတ်တော်၏ ပန်းပွားကို ထိ
၂၂ လေ၏၊— ယေရှုသည်လှည့်၍ထိုမိန်းမကိုမြင်တော်
မူလျှင်၊ငသမီး၊မစိုးရိမ်နှင့်၊ သင်၏ယုံကြည်ခြင်း
သည် သင့်အနာကိုငြိမ်းစေပြီဟု မိန့်တော်မူ၏၊
ထိုခဏမှစ၍ထိုမိန်းမသည်အနာကင်းပျောက်လေ
၂၃ ၏၊— အရာရှိအိမ်သို့ ရောက် တော် မူ၍ တီးမှုတ်
သော သူ တို့ နှင့် များစွာသော လူတို့သည် ဆူနှံ
၂၄ ဆူနှံသဲသဲ ပြုကြသည်ကို မြင်လျှင်၊— ဖယ်ရှားကြ
ကြလော့၊ မိန်းမငယ်သေသည်မဟုတ်၊ အိပ်ပျော်
သည်ဟု မိန့်တော်မူသော်၊ ထိုသူတို့သည် ပြက်
၂၅ ရယ်ပြုကြ၏၊— ထိုလူများကို ပြင်သို့ထွက်စေပြီး
မှ အတွင်းသို့ ဝင်၍၊ မိန်းမငယ်၏ လက်ကို ကိုင်
၂၆ တော်မူသည်တွင်သူသည်ထလေ၏၊ ထိုသိတင်း
စကားသည် တပြည် လုံး ၌ နှံ့ပြားကျော်စော
လေ၏၊
၂၇ ထိုအရပ်မှယေရှုသည်ကြွတော်မူစဉ်၊ မျက်
မြင်မကန်းသောသူနှစ်ယောက်တို့သည်နောက်တော်
သို့လိုက်၍၊ဒါဝိဒ်၏သားတော်၊ကျွန်တော်တို့ကို
၂၈ သနားတော်မူပါ ဟုဟစ်ကြော်ကြ၏၊— အိမ်သို့
ဝင်တော်မူလျှင်၊ မျက်မြင်ကန်းသော သူတို့သည်
အထံတော်သို့ ချဉ်းကပ်ကြ၏၊ ကိုယ်တော်က
လည်း၊ ဤအမှုကို ငါ တတ်နိုင်သည် ကို ယုံသ
လောဟု မေး တော် မူလျှင်၊ ယုံ ပါ၏ သခင် ဟု
၂၉ လျှောက် ကြ၏၊— ထိုအခါ သူတို့၏မျက်စိကိုထိ
တော်မူ၍၊သင်တို့ယုံခြင်းရှိသည်အတိုင်းသင်တို့
၃၀ ၌ဖြစ်စေဟုမိန့်တော်မူလျှင်၊— သူတို့သည်မျက်စိ
ပွင့်လင်းလေ၏၊ ယေရှုကလည်း၊ အဘယ်သူမျှမ
သိစေခြင်းငှါ သတိပြုကြလော့ဟုမြစ်တားတော်
၃၁ မူ၏၊— သို့သော်လည်း၊ ထိုသူ တို့သည် သွား၍
သိတင်းတော်ကိုတပြည်လုံး၌နှံ့ပြားကျော်စော
စေ၏၊
၃၂ ထိုသူတို့သည်ထွက်သွားကြသစဉ်နေဥက်၊ နတ်
ဆိုးစွဲသော လူအ တယောက် ကို အထံတော်သို့
၃၃ ဆောင်ခဲ့ကြ၏၊— နတ်ဆိုးကိုနှင်ထုတ်တော်မူပြီး
မှ ထိုအသောသူသည်စကားပြော၏၊ လူအစုအ
ဝေးတို့ သည်လည်း အံ့ဩ၍၊ ဣသရေလအ
မျိုး၌ဤကဲ့သို့မမြင်ရစဖူးဟုပြောဆိုကြ၏၊— ဖာ
ရိရှဲတို့ကလည်း၊ နတ်ဆိုးအကြီးကိုအမှီပြု၍နတ်
ဆိုးတို့ကိုနှင်ထုတ်သည်ဟုပြောဆိုကြ၏၊

၃၅ ယေရှုသည်တရားဇရပ်တို့၌ဆုံးမဩဝါဒပေး
လျှက်၊နိုင်ငံတော်နှင့်ရှည်သောဧဝံဂေလိတရား
ကိုဟောလျှက်၊လူများခံရသောအနာရောဂါအ
မျိုးမျိုးတို့ကိုပြိမ်းစေလျှက်၊မြို့ရွာရှိသမျှတို့ကိုဒေ
သစာရီလှည့်လည်တော်မူ၏။ လူအစုအဝေးတို့
ကို မြင်တော်မူလျှင်၊ သနားခြင်းစိတ် ရှိတော်မူ
၃၆ ၏။- အကြောင်းမူကား၊ ထိုသူတို့သည် ပင်ပန်း
သည်ဖြစ်၍ထိန်းသူမရှိဘဲ၊ ပြစ်ထားသော သိုး
၃၇ ကဲ့သို့ဖြစ်ကြ၏။- ထိုအခါကိုယ်တော်က၊ စပါး
ရိတ်စရာများစွာရှိ၏၊ရိတ်သောသူတို့သည်နည်း
၃၈ ကြ၏။- ထိုကြောင့်၊ လုပ်ဆောင်သော သူတို့ကို
စပါးရိတ်စေခြင်း ငှါ စေလွှတ်တော်မူမည် အ
ကြောင်း၊ စပါးရှင်ကိုဆုတောင်းကြလော့ဟု၊တ
ပည့်တော်တို့အားမိန့်တော်မူ၏။

၁၀

၁ တကျိပ် နှစ်ပါးသော တပည့်တော် တို့ကို ခေါ်
တော်မူပြီးမှ၊ ညစ်ညူးသောနတ်တို့ကို နှင်ထုတ်
ခြင်းငှါ၎င်း၊ အနာရောဂါအမျိုးမျိုးတို့ကိုပြိမ်းစေ
၂ ခြင်းငှါ၎င်း အခွင့်ပေးတော်မူ၏။- တကျိပ်နှစ်ပါး
သော တပည့်တော်တို့၏အမည်ကား၊ ပဌမမှာ၊
ပေတရုဟု ၍ ခေါ်ဝေါ်သော ရှိမုန် နှင့် သူ ညီ
၃ အန္ဒြေ၊-ဇေဗေဒဲ၏သားယာကုပ်နှင့်သူညီယော
ဟန်၊ဖိလိပ္ပုနှင့်ဗာသောလမဲ၊သောမနှင့်အခွန်
ခံမဿဲ၊ အာလဖဲ၏သား ယာကုပ်နှင့်သဒ္ဒဲဟုအ
၄ မည်သစ်ကိုရသောလေဗဲ၊- ကာနနိတ်လူ ရှိမုန်
နှင့် ကိုယ်တော်ကို အပ်နှံသော ယုဒရှကာရုတ်
၅ ပေတည်း။- ထို တကျိပ် နှစ်ပါး သော သူတို့ကို
ယေရှုသည် စေလွှတ်တော်မူ၍၊ သင်တို့သည်တ
ပါး အမျိုးသားတို့ ရှိရာသို့မသွားကြနှင့်၊ ရှမာရိ
၆ မြို့ရွာ ထဲသို့ မဝင် ကြ နှင့်။- ဣသရေလ အမျိုး၊
ပျောက်လွင့်သော သိုး များ ရှိရာသို့ အရင် သွား
၇ ကြလော့။- သွားစဉ်တွင်၊ကောင်းကင်နိုင်ငံတော်
တည်လု နီးပြီဟု သိတင်း ကြားပြောကြလော့။-
၈ နာသောသူတို့အား ချမ်းသာပေးကြလော့၊ သေ
သောသူတို့ကို ထမြောက်စေ ကြ လော့၊ နူသော
သူတို့ကို သန့်ရှင်း စေကြလော့၊ နတ်ဆိုး တို့ကို
လည်း နှင်ထုတ်ကြလော့၊ သင်တို့သည်အဘိုးမ
ပေးဘဲကျေးဇူးတော်ကိုခံရကြပြီဖြစ်၍၊အဘိုးမ
၉ ခံဘဲပေးကမ်းကြလော့။-ရွှေ၊ငွေ၊ကြေးတို့ကိုခါး
၁၀ ပန်းထဲ၌ မသိုမှီး ကြနှင့်။- ထမ်းခရီး သို့ လွယ်
အိတ်၊ အင်္ကျီနှစ်ထည်၊ ခြေနင်း၊ တောင်ဝှေးကိုမ
ထိုမှီး ကြနှင့်။ အကြောင်းမူကား၊ လုပ်ဆောင်
သော သူ သည် ကျွေး မွေး ခြင်း ခံ ထိုက် ပေ၏။
၁၁ မည်သည့်မြို့၊မည်သည့်ရွာသို့ဝင်လျှင်၊ ထိုမြို့
ရွာ၌ အဘယ်မည်သော သူသည် ထိုက်တန် သ
နည်းဟုမေးမြန်း၍၊ ထိုမြို့ရွာမှ မထွက် မသွားမှီ
၁၂ ထိုင်အောင်ထိုသူ၏အိမ်တွင်နေကြလော့။- အိမ်
သို့ဝင်သောအခါ မင်္ဂလာ ရှိပါစေသောဟု နှုတ်
၁၃ ဆက်ခြင်းကို ပြုကြလော့။- ထိုအိမ်သည်ထိုက်
တန်လျှင်၊ သင်တို့မြွက်သော မင်္ဂလာ ရောက်စေ
သတည်း၊ မထိုက် တန်လျှင်၊ သင်တို့ ထံသို့ပြန်
၁၄ လာစေသတည်း။- အကြင် သူသည် သင်တို့ကို
လက်မခံ၊ သင်တို့၏စကားကို နားမထောင်ဘဲနေ
၏၊ ထိုသူနေသောအိမ်မှ၎င်း၊ မြို့မှ၎င်း ထွက်သွား
စဉ်၊ သင်တို့၏ခြေဖဝါးမှ မြေမှုန့်ကိုခါထုတ်ကြ
၁၅ လော့။- ငါအမှန်ဆိုသည်ကား၊ တရားဆုံးဖြတ်
သောနေ့၌ထိုမြို့သည်သောဒုံမြို့နှင့် ဂေါမောရမြို့
ထက်သာ၍ခံရလတံ့။
၁၆ တောခွေးရုထဲသို့သိုးတို့ကို စေလွှတ်သကဲ့သို့
သင်တို့ကို ငါစေလွှတ်၏၊ ထို့ကြောင့်၊ သင်တို့
သည် မြွေကဲ့သို့ လိမ္မာလျှက်၊ ချိုးငှက်ကဲ့သို့ အ
၁၇ ဆိပ်ကင်းလျှက်ရှိကြလော့။- လူတို့ကို သတိပြု
ကြ၊ အကြောင်းမူကား၊ သင်တို့ကို လွှတ်ရုံးသို့
အပ်နှံကြလိမ့်မည်၊ တရားဇရပ်တို့၌ ရိုက်ကြ
၁၈ လိမ့်မည်။- ထိုသူတို့မှစ၍ တပါးအမျိုးသားတို့
အား သက်သေ ဖြစ်စေ ခြင်းငှါ၊ မြို့ဝန်မင်း၊ ရှင်
ဘုရင် ထံသို့ ငါ့ကြောင့် သင် တို့ကို ရှိဆောင် ကြ
၁၉ လိမ့်မည်၊-သင်တို့ကိုအပ်နှံသောအခါအဘယ်
သို့ ပြောရမည်ကို မပူးရိမ်ကြနှင့်၊ ပြောရသော
စကားကို ထိုခဏ ချင်း တွင် သင်တို့ သည် ရကြ
၂၀ လိမ့်မည်၊-အကြောင်းမူကား၊ သင်တို့အလိုအ
လျောက် ပြောကြသည် မဟုတ်၊ သင်တို့ အဘ၏
ဝိညာဉ်တော်သည်သင်တို့အားဖြင့်ပြောတော်မူ
၂၁ ၏။- ထိုအခါ ညီအစ်ကို ချင်း တယောက်ကို တ
ယောက်သေစေခြင်းငှါ အပ်ကြလိမ့်မည်၊ အဘ
သည်လည်းသားကို အပ်လိမ့်မည်၊ သားသမီးတို့
သည်လည်း မိဘကိုရန် ထတ် ပြု၍ သေစေကြ
၂၂ လိမ့်မည်။- လူအပေါင်းတို့သည်လည်း၊ ငါ၏နာ
မကြောင့်သင်တို့ကို မုန်းကြလိမ့်မည်၊ အကြင်
သူသည်အဆုံးတိုင်အောင်တည်ကြည်၏၊ ထိုသူ
သည်ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။
၂၃ တမြို့၌သင်တို့ကို ညှဉ်းဆဲလျှင် တမြို့သို့ပြေး
ကြလော့၊ ငါအမှန်ဆိုသည်ကား၊ ဣသရေလ
မြို့ရွာရှိသမျှတို့ကိုသင်တို့ဖျည့်စည်း၍မကုန်မှီ၊

၂၄ ထူးသားသည် ကြွထသလိမ့်မည်။– တပည့်သည်
ဆရာ ထက် မသာ၊ ကျွန် သည် သခင် ထက် မ
၂၅ သာ။– တပည့်သည် ဆရာကဲ့သို့၎င်၊ ကျွန်သည်
သခင်ကဲ့သို့၎င်ဖြစ်လျှင်သင့်လောက်ပေ၏။ အိမ်
ရှင်ကိုဗေလဇေဗုလဟုခေါ်ဝေါ်ကြလျှင်၊ အိမ်
သူအိမ်သားတို့ကိုသာ၍ခေါ်ဝေါ်ကြလိမ့်မည်။–
၂၆ ထိုကြောင့်၊ သူတို့ကိုမကြောက်ကြနှင့်။ ဖုံးထား
လျက်ရှိသမျှသောအရာတို့သည် ပွင့်လိမ့်မည်။
ဆိတ်ကွယ်ရာ၌ ရှိသမျှတို့သည်လည်း ထင်ရှား
၂၇ လိမ့်မည်။– မှောင်မိုက်၌ သင်တို့အား ငါ ပြော
သောအရာများကိုသင်တို့သည် အလင်း၌ကြား
ပြောကြလော့။ သင်တို့နားအပါး၌ ပြော၍ကြား
သော အရာ များကို အိမ်မိုး ပေါ်မှာ တစ် ကြော်
ကြလော့ဟုမိန့်တော်မူ၏။
၂၈ တနည်းကား၊ ကိုယ်ခန္ဓာကိုသာသတ်၍ စိတ်
ဝိညာဉ်ကို မသတ် နိုင်သော သူတို့ကို မကြောက်
ကြနှင့်။ ကိုယ်ခန္ဓာနှင့်စိတ်ဝိညာဉ်ကိုငရဲ၌ ဖျက်
ဆီးနိုင်သောသူကို သာ၍ ကြောက် ကြလော့။–
၂၉ စာငှက်နှစ်ကောင်ကိုအသပြာတပြားအဘိုးနှင့်
ဝယ်ရသည်မဟုတ်လော။ သင်တို့ အဘ အခွင့်မ
ရှိလျှင်၊ ထိုစာငှက် တကောင်မျှ မြေသို့ မကျရ။–
၃၀ သင်တို့ဆံပင်သည်လည်းအကုန်အစင်ရေတွက်
၃၁ လျက်ရှိ၏။– ထိုကြောင့်၊မကြောက်ကြနှင့်။ သင်
တို့သည်စာငှက်အများတို့ထက်သာ၍ မြတ်ကြ
၃၂ ၏။– အကြင်သူသည် လူတို့ရှေ့မှာငါ့ကို ဝန်ခံဘို့၊
ကောင်းကင်ဘုံ၌ ရှိသော ငါ၏ ခမည်းတော် ရှေ့
၃၃ မှာထိုသူကိုငါဝန်ခံမည်။–အကြင်သူသည်လူတို့
ရှေ့မှာ ငါ့ကို ငြင်းပယ်ဘို့၊ ကောင်းကင် ဘုံ၌ ရှိ
သော ငါ၏ ခမည်းတော်ရှေ့မှာ ထိုသူကို ငါငြင်း
ပယ်မည်။
၃၄ မြေပေါ်သို့ငြိမ်သက်ခြင်းကို ဆောင်ခဲ့သော
ငှါ ငါလာသည်ဟုမထင်ကြနှင့်။ ငြိမ်သက်ခြင်း
ကို ဆောင် ခဲ့သောငှါ ငါလာ သည် မဟုတ်။
ထားကို ဆောင်ခဲ့သောငှါ ငါလာသတည်း။–
၃၅ အဘနှင့်သား၊ အမိနှင့်သမီး၊ ယောက္ခမနှင့်ချွေးမ
အချင်းချင်းကွဲပြားစေခြင်းငှါငါလာသတည်း။–
၃၆ ကိုယ်အိမ်သူ အိမ်သား တို့သည် လည်း ကိုယ်
၃၇ ရန်သူ ဖြစ်ကြလိမ့်မည်။– အကြင်သူသည် ငါ့ကို
ချစ်သည်ထက် မိဘကို သာ၍ချစ်၏၊ ထိုသူသည်
ငါနှင့် မထိုက်မတန်။ အကြင်သူသည် ငါ့ကို ချစ်
သည်ထက်သားသမီးကိုသာ၍ချစ်၏၊ထိုသူသည်
၃၈ ငါနှင့်မထိုက်မတန်။– အကြင်သူသည်မိမိထက်
ဝါးကပ်တိုင်ကိုထမ်း၍ငါ့နောက်သို့မလိုက်၊ ထို
၃၉ သူသည် ငါနှင့်မထိုက်မတန်။– မိမိ အသက်ကို
ရှာသော သူ သည် အ သက် ရှုံး လိမ့် မည်။ ငါ
ကြောင့် မိမိအသက် ရှုံးသောသူမူကား၊ အသက်
၄၀ ကို တွေ့လိမ့်မည်။– သင်တို့ကို လက်ခံသော သူ
သည်ငါ့ကိုလက်ခံ၏။ ငါ့ကိုလက်ခံသောသူသည်
ငါ့ ကို စေလွှတ် တော်မူသော သူကို လက် ခံ ၏။–
၄၁ ပရောဖက်၏ ဘွဲ့နာမကိုထောက်၍၊ ပရောဖက်
ကိုလက်ခံသောသူသည်ပရောဖက်၏အကျိုးကို
ခံရလတံ့။ ဖြောင့်မတ် သော သူ ၏ ဘွဲ့ နာမ ကို
ထောက်၍၊ ဖြောင့်မတ်သောသူကိုလက်ခံသော
သူ သည် ဖြောင့် မတ် သော သူ၏ အကျိုး ကို ခံရ
၄၂ လတံ့။– အကြင် သူသည် တပည့်တော် ၏ ဘွဲ့
နာမ ကို ထောက် ၍ ဤ သူငယ် တ ယောက်
အား ရေတခွက်ကိုမျှပေး၏၊ ထိုသူသည်အကျိုး
ကိုမရဘဲမနေရာ၊ ငါအမှန်ဆိုသည်ဟု မှာထား
တော်မူ၏။

၁၁

၁ ထိုသို့ တကျိပ် နှစ်ပါးသော တပည့် တော်တို့
ကို အကုန်အစင် မှာထားတော်မူပြီးလျှင်၊ မြို့ရွာ
များတို့၌ ဆုံးမဩဝါဒ ပေးခြင်းငှါ၎င်၊ ထိတင်း
ကြားပြောခြင်းငှါ၎င်ထိုအရပ်မှကြွတော်မူ၏။
၂ ခရစ်တော်ပြုတော်မူသောအမှုတို့ကိုယောဟန်
သည်ထောင်ထဲမှာကြားသောအခါ၊မိမိတပည့်
နှစ်ယောက် ကို စေလွှတ်၍၊ ကိုယ် တော်သည်
၃ ကြွလာ သော သူ မှန်သလော။– သို့မဟုတ်၊ အခြ
ားသောသူကိုမျှော်လင့်ရပါမည်လောဟုမေး
၄ လျှောက်စေ၏။– ယေရှုကလည်း၊ သင်တို့သည်
ကြားရသမျှ၊မြင်ရသမျှတို့ကိုသွား၍ယောဟန်
၅ အား ကြား လျှောက် ကြ လော့။– မျက် မိ ကန်း
သောသူတို့သည် မျက်စိ မြင်ရကြ၏။ ခြေမစွမ်း
သောသူတို့သည်ဖွမ်းသွားရကြ၏။ နူနာစွဲသော
သူတို့သည် သန့်ရှင်းခြင်းသို့ရောက်ရကြ၏။ နား
ပင်း သော သူ တို့ သည် နား ကြား ရကြ၏။ သေ
သောသူတို့သည်ထမြောက်ခြင်းသို့ ရောက်ရကြ
၏။ ဆင်းရဲသား၊ တို့ သည်လည်း ဝမ်း မြောက်
၆ စရာ သိ တင်း ကို ကြား ရ ကြ ၏။– ငါ ကြောင့်
စိတ်မပျက်သောသူသည်မင်္ဂလာရှိ၏ဟုပြန်ပြော
တော်မူ၏။
၇ ထို သူတို့သည် သွားကြသည်နောက်၊ ယေရှု
သည် ယောဟန်ကို အကြောင်းပြု၍ ပရိသတ်
တို့အား၊ သင်တို့သည်အဘယ်မည်သော အရာ

ကိုကြည့်ရှုခြင်းငှါ တောသို့ထွက်သွား ကြသနည်း။ လေလှုပ်သောကျူပင်ကို ကြည့်ရှုခြင်း
၈ ငှါ သွား သလော။– ထိုမဟုတ်၊ နူးညံ့သော အဝတ်ကို ဝတ်ဆင်သော သူကို ကြည့်ရှုခြင်း ငှါ သွားသလော၊ နူးညံ့သော အဝတ်ကို ဝတ်ဆင်
၉ သောသူတို့သည် မင်းအိမ်၌ နေတတ်ကြ၏။– ပရောဖက်ကို ကြည့်ရှုခြင်းငှါ သွား သလော၊ မှန်ပေ၏၊ ပရောဖက်ထက်ကြီးမြတ်သောသူတည်း
၁၀ ဖြစ်သည်ဟုငါဆို၏။– ကျမ်းစာ၌လာသည်ကား၊ ကြည့်ရှုလော့၊ သင်သွားရာလမ်းကိုပြင်ရသော ငါ၏တမန်ကို သင့်ရှေ့၌ငါစေလွှတ်၏ဟု ဆိုရာ၌ ထိုသူကိုဆိုလိုသတည်း။

၁၁ ငါအမှန်ဆိုသည်ကား၊ မိန်းမ ဖွားသော သူတို့တွင် နှစ်ခြင်း ဆရာ ယောဟန် ထက် ကြီးမြတ်သော သူ ထ ပေါက်မျှမပေါ်မထွန်းသေး၊ သို့သော်လည်း၊ ကောင်းကင်နိုင်ငံတော်တွင်အငယ်ဆုံးသော သူသည် ထိုသူ ထက် သာ၍ ကြီးမြတ်
၁၂ ၏။– နှစ်ခြင်းဆရာယောဟန် ထက်ထက်မှစ၍ ယခုတိုင်အောင် ကောင်းကင် နိုင်ငံတော်ကို အနိုင်အထက်ပြုကြ၏၊ အနိုင်အထက်ပြုသောသူတို့
၁၃ သည်လည်းလုယူဝင်စားရကြ၏။– ယောဟန်မရောက်မှီ တိုင်အောင် ပညတ်ကျမ်း၊ အနာဂတ္တိ
၁၄ ကျမ်းရှိသမျှတို့သည် ဆုံးမြွက်ပေးကြ၏။–သင်တို့သည် ငါ့စကားကို နားခံနိုင်လျှင်၊ ဤသူကား
၁၅ လာလတံ့သော ဧလိယဖြစ်သတည်း။–ကြားစရာနားရှိသောသူမူလည်းကြားပါစေ။

၁၆ ဤလူမျိုးကိုအဘယ်ဥပမာနှင့်ပုံပြရအံ့နည်း။ စျေးသတင်း၌ ထိုင်နေသော သူငယ်တို့သည် မိမိသူ
၁၇ ငယ်ချင်းတို့အား အသံကိုဖွင့်၍၊– ငါတို့သည် သာလာစွာ တီးမှုတ်သော်လည်း သင်တို့သည်မ ကကြ၊ ညည်းတွားစွာမြည်တမ်းသော်လည်းမ ငိုကြွေးကြဟု ပြောဆိုသော သူငယ်တို့နှင့် ဤလူ
၁၈ မျိုးသည်တူလှ၏။– အကြောင်းမူကား၊ယောဟန်သည်မစား မသောက်ဘဲ လာသည် ရှိသော်၊ လူတို့က၊ ဤသူသည် နတ်ဆိုးစွဲသောသူပါတကား
၁၉ ဟု ဆိုကြ၏။– လူသားသည် စား သောက်လျက် လာသည်ရှိသော်၊ ဤသူသည်စားကြူးသောသူ၊ စပျစ်ရည် သောက်ကြူးသော သူပါတကား၊ အခွန်ခံသောသူနှင့် ဆိုးသော သူတို့ကို မိတ်ဆွေ ဖွဲ့သော သူပါ တကား၊ ဟု ဆိုပြန် ကြ၏၊ သို့သော်လည်း၊ ပညာတရားသည်မိမိသား၊ တို့တွင်၊ ကဲ့ရဲ့ပြစ်တင်ခြင်းနှင့်လွတ်သည်ဟုမိန့်တော်မူ၏။

၂၀ ထိုအခါများစွာသောတန်ခိုးတော်ကိုပြတော်မူသော မြို့ရွာတို့သည်နောင်တမရသောကြောင့်၊
၂၁ ထိုမြို့တို့ကို ဤသို့ကဲ့ရဲ့ပြစ်တင်တော်မူ၏။– ခေါရာဇိန်မြို့၊ သင်သည် အမင်္ဂလာရှိ၏၊ ဗက်ဇဲဒမြို့၊သင်သည်အမင်္ဂလာရှိ၏၊ အကြောင်းမူကား၊ သင်တို့တွင်ပြသောတန်ခိုးကိုတုရုမြို့နှင့်ဇိဒုန်မြို့ တို့တွင် ပြဘူးလျှင်၊ ထိုမြို့တို့သည် ရှေးကာလ၌ လျှော်တေ အဝတ်ကို ဝတ်၍၊ ပြာနှင့် လူးလျက်
၂၂ နောင်တရကြလိမ့်မည်။–ငါဆိုသည်ကား၊တရားဆုံးဖြတ်သောနေ့၌သင်တို့သည်တုရုမြို့နှင့်ဇိဒုန်
၂၃ မြို့ထက်သာ၍ ခံရကြလတံ့။– ကပေရနောင်မြို့၊ သင်သည် မိုဃ်းကောင်းကင် တိုင်အောင် မြှောက်စားခြင်းကိုခံရသော်လည်း၊ မရဏာနိုင်ငံတိုင်အောင်နှိမ့်ချခြင်းကိုခံရလတံ့၊ အကြောင်းမူကား၊ သင်၌ပြသောတန်ခိုးကို သောဒုံမြို့၌ပြဘူးလျှင်၊ ထိုမြို့သည် ယခုတိုင်အောင် တည်ရာ
၂၄ ၏။–ငါဆိုသည်ကား၊ တရားဆုံးဖြတ်သောနေ့၌ သင်သည်သောဒုံမြို့ထက်သာ၍ ခံရလတံ့ဟုမိန့်တော်မူ၏။

၂၅ ထိုအခါယေရှုက၊ ကောင်းကင်နှင့် မြေကြီးကို အစိုးရတော်မူသောအဘ၊ ကိုယ်တော်သည် ပညာအသိစွာနှင့်ပြည့်စုံသောသူတို့အား ဤအရာများကို ထိမ်ဝှက်ကွယ်ထားလျက်၊ သူငယ်တို့အား ဖော်ပြတော်မူသည်ဖြစ်၍၊ ကျေးဇူးတော်ကိုအ
၂၆ ကျွန်ုပ်ချီးမွမ်းပါ၏။– ထိုသို့အလိုတော်ရှိသော
၂၇ ကြောင့်မှန်ပါ၏အဘ။– ငါ၏ခမည်းတော်သည် ခပ်သိမ်းသော အရာတို့ကို ငါ၌ အပ်ပေးတော်မူပြီ၊ ခမည်းတော်မှ တပါး၊ အဘယ်သူမျှ သားတော်ကို မသိ၊ သားတော်နှင့် သား တော်သည် ထင်ရှားစေလိုသော သူမှ တပါး၊ အဘယ်သူမျှ
၂၈ ခမည်းတော်ကိုမသိ။–ဝန်လေး၍ ပင်ပန်းသော သူအပေါင်းတို့၊ ငါ့ထံသို့လာကြလော့၊ ငါသည်
၂၉ ချမ်းသာပေးမည်။– ငါ့ထမ်းဘိုးကိုထင်း၍ထမ်းကြလော့၊ငါ့ထံ၌နည်းခံကြလော့၊ ငါသည်နူးညံ့သိမ်မွေ့ နှိမ့်ချသော စိတ် သဘော ရှိ၏၊ သင်တို့စိတ်နှလုံးသည်သက်သာခြင်းကိုရလိမ့်မည်။–
၃၀ အကြောင်းမူကား၊ ငါ့ထမ်း ဘိုး သည် ထမ်းလွယ်၏၊ငါ့ဝန်လည်းပေါ့၏ဟုမိန့်တော်မူ၏။

၁၂

၁ ထိုကာလ အခါ ယေရှုသည် ဥပုသ်နေ့၌ ဂျုံစပါးလယ်ကွက်တို့ကို ရှောက်ကြွတော်မူလျှင်၊ တပည့်တော်တို့ သည် ဆာမွတ်သောကြောင့်

၂ ဖါရိရှဲတို့သည် မြင်လျှင်၊ ကိုယ်တော်၏တပည့်တို့သည်
ဥပုသ်နေ့၌မပြုအပ်သောအမှုကို ပြုကြပါသည်
၃ ဟုလျှောက်ကြသော်၊– ကိုယ်တော်က၊
ဒါဝိဒ်သည်မိမိအဖော်တို့နှင့်တကွ ဆာမွတ်သိပ်သော
၄ အခါ၊– ဘုရားသခင်၏အိမ်တော်သို့ဝင်၍ မိမိမ
စားအပ်၊မိမိအဖော်စားအပ်၊ယဇ်ပုရောဟိတ်
တို့သာ စားအပ်သောရှေ့တော်မုန့်ကို စားသည်
အကြောင်းကို သင်တို့သည်မဖတ်ဘူးသလော၊–
၅ ယဇ်ပုရောဟိတ်တို့သည်၊ ဗိမာန်တော်
တွင်ဥပုသ်နေ့၌ဥပုသ်ဖျက်သော်လည်း၊ အပြစ်
မသင့်သည်ကို ပညတ်ကျမ်း၌ မဖတ်ဘူးသ
၆ လော၊– ငါဆိုသည်ကား၊ ဤအရပ်၌ ဗိမာန်
တော်ထက်သာ၍ ကြီးမြတ်သော အရာ ရှိ၏၊–
၇ ယဇ်ပူဇော်ခြင်းကိုမလို၊ ကရုဏာစိတ်ကိုလို
သည်ဟူသော ကျမ်းစကားကို သင်တို့သည် နားလည်လျှင်၊ အပြစ်
ကင်းသော သူတို့ကို အပြစ်မတင်မစီရင်ကြပြီ၊–
၈ လူသားသည် ဥပုသ်နေ့ကို အစိုးရသည်ဟု မိန့်
တော်မူ၏၊
၉ ထိုအရပ်မှကြွ၍ တရားစရပ်သို့ဝင်တော်မူ၏၊
ထိုတွင် လက်တဘက်သေသော သူတယောက် ရှိသည်
၁၀ ဖြစ်၍၊– လူအများတို့က၊ ဥပုသ်နေ့၌ ရောဂါကို
ငြိမ်းစေအပ်သလောဟု၊ ကိုယ်တော်၌ အပြစ်
၁၁ တင်ခွင့်ကို ရှာ၍ မေးလျှောက်ကြ၏၊– ကိုယ်
တော်ကလည်း၊ မိမိ၌ သိုးတကောင်တည်း ရှိ၍
ထိုသိုးသည်ဥပုသ်နေ့၌ တွင်းထဲသို့ကျလျှင်၊ စွဲ
ကိုင်မတင်ဘဲနေမည်သူတစုံတယောက်မျှသင်တို့
၁၂ တွင်ရှိသလော၊–လူသည်သိုးထက်အလွန်မြတ်
ပေ၏၊ ထိုကြောင့်၊ ဥပုသ်နေ့၌ ကောင်းမှုပြုအပ်
၁၃ သည်ဟုမိန့်တော်မူပြီးမှ၊–ထိုသူအား၊သင်
၏လက်ကိုဆန့်လော့ဟုမိန့်တော်မူ၍၊သူသည်မိ
မိလက်ကိုဆန့်လျှင်အခြားလက်ကဲ့သို့ပကတိ
၁၄ ဖြစ်လေ၏၊– ထိုအခါ ဖါရိရှဲတို့
သည်ထွက်၍ ကိုယ်တော်ကို အဘယ်သို့ဖျက်
ဆီးရမည်နည်းဟုတိုင်ပင်ကြ၏၊
၁၅ ယေရှုသည်သိတော်မူလျှင်၊ အခြားသို့ပြောင်း၍
ကြွ၍ များစွာသောလူအပေါင်းတို့သည် နောက်
တော်သို့လိုက်ကြသဖြင့်၊သူတို့၏အနာရောဂါရှိ
၁၆ သမျှတို့ကိုငြိမ်းစေတော်မူ၏၊– ထိုသူတို့သည်ထိ
လင်းစေတော်ကို ရှုပ်ရှက်မည် အကြောင်း၊ ပညတ်
၁၇ တော်မူ၏၊– ထိုသို့ပြောင်းရသောအကြောင်းကား၊ ပရော

ဖက် ဟေရှာယ၏ နှုတ်ဖြင့် မြွက်ဆိုသော စကား
ပြည့်စုံစေခြင်းငှာ ဖြစ်သတည်း၊ နှုတ်ထွက်စကား ဟူမူကား၊–
၁၈ ငါရွေးချယ်သော ကျွန်ရှိ၏၊ ငါနှစ်သက်မြတ်
နိုးသောသူကို ကြည့်ရှုလော့၊ ထိုသူ၏အပေါ်၌
ငါ၏ဝိညာဉ်ကိုငါတည်စေမည်၊ လူသည်လူအမျိုး
၁၉ မျိုးတို့ကိုတရားပေးလိမ့်မည်၊– ငြင်းခုံခြင်း၊ ဟစ်
ကြော်ခြင်းကိုမပြုမူ၍၊ ထမ်းခရီး၌သူ၏အသံကို
၂၀ အဘယ်သူမျှ မကြားစေရ၊– နင်းနယ်လျှော်သော
ကျူပင်ကိုမချိုး၊ မီးခိုးထွက်သောမီးစာကို
မသတ်၊ တရားသည်အောင်မြင်ခြင်းသို့ ရောက်
၂၁ မည်အကြောင်း၊ စီရင်လိမ့်မည်၊– သူ၏နာမကို
သည်၊ လူအမျိုးမျိုးတို့သည်ကိုးစားကြလိမ့်မည်
ဟုဟောထားသတည်း၊
၂၂ ထိုအခါ နတ်ဆိုး စွဲသော လူကန်း လူအ တ
ယောက်ကိုအထံတော်သို့ ဆောင်ခဲ့ကြလျှင်၊ ထို
လူကန်း လူအသည် မျက်စိမြင်၍ စကားပြောနိုင်
၂၃ အောင် ကယ်မတော်မူ၏၊– လူအစုအဝေးအ
ပေါင်း၊ တို့သည် မိန်းမော တွေဝေ၍၊ ဤသူသည်
ဒါဝိဒ်၏သားတော် ဖြစ်လိမ့်မည်လောဟု ပြော
၂၄ ဆိုကြ၏၊– ဖါရိရှဲ တို့သည် ကြားလျှင်၊ ဤ လူ
သည် နတ်ဆိုး မင်းဗေလဇေဗုလကို အမှီပြု၍
သာ နတ်ဆိုးတို့ကို နှင်ထုတ်သည်ဟု ဆိုကြ၏၊–
၂၅ ယေရှုသည်ထိုသူတို့၏ စိတ်ကို သိတော်မူသည်
ဖြစ်၍၊ ထိုင်းနိုင်ငံမည်သည်ကား၊ မိမိနှင့်မသင့်
မတော် ကွဲပြားလျှင် ပျက်စီးခြင်းသို့ ရောက်လိမ့်
မည်၊ မြို့ရွာဖြစ်စေ၊ အိမ်ဖြစ်စေ၊ မိမိနှင့် မသင့်မ
၂၆ တင့်ကွဲပြားလျှင်မတည်နိုင်ရာ၊– စာတန်သည်
သည်၊ စာတန်ကို နှင်ထုတ် သည် မှန်လျှင်၊ လူ
သည်မိမိနှင့်ကွဲပြား၏၊ သူ၏နိုင်ငံသည် အဘယ်
၂၇ သို့တည်နိုင်မည်နည်း၊– ငါသည်ဗေလဇေဗုလ
ကို အမှီပြု၍ နတ်ဆိုး တို့ကို နှင်ထုတ်သည် မှန်
လျှင်၊ သင်တို့၏သားတို့သည် အဘယ်သူကိုအမှီ
ပြု၍ နှင်ထုတ် ကြ သနည်း၊ ထိုကြောင့်၊ ထိုသူတို့
သည် သင်တို့အား တရားစီရင်သော သူဖြစ်ကြ
၂၈ လိမ့်မည်၊– ငါသည် ဘုရား သခင် ၏ ဝိညာဉ်
တော်ကိုအမှီပြု၍ နတ်ဆိုး တို့ကို နှင်ထုတ်သည်
မှန်လျှင်၊ အကယ်စင်စစ်သင်တို့၌ဘုရားသခင်၏
၂၉ နိုင်ငံတော်သည်ရှိန်ရောက်လေပြီ၊– လူရဲကိုရှေ့
ဦးစွာမချည်မနှောင်လျှင်၊ တစ်ယောက်သောသူသည်လူရဲ
အိမ်သို့ဝင်၍ သူ၏ဥစ္စာကို လုယူနိုင်မည်နည်း၊ လူ
ရဲကိုချည်နှောင်ပြီးမှသူ၏အိမ်ကို လုယူနိုင်၏၊–
၃၀ ငါ၏ဘက်၌မနေသောသူသည်ငါ့ရန်ဘက်ဖြစ်၏၊

နှင့်အတူမစုမသိမ်းသောသူသည် ကြဲဖြန့်သော
သူဖြစ်၏
၃၁ ထိုကြောင့်ငါဆိုသည်ကား၊ ဖြစ်မှားသောအ
ပြစ်၊ဘုရားကို ကဲ့ရဲ့သောအပြစ်အမျိုးမျိုးတို့နှင့်
လွှတ်စေခြင်း အခွင့်ကို လူတို့သည် ရနိုင်ကြ၏၊
ဝိညာဉ်တော်ကို ကဲ့ရဲ့သော အပြစ်နှင့် လွှတ်စေ
၃၂ ခြင်းအခွင့်ကိုလူတို့သည်မရနိုင်ကြ။-လူသားကို
ရှုတ်ချ၍ ဖြစ် မှား သော သူ ၏ အပြစ် ကို လည်း
လွှတ်နိုင်၏၊ သန့်ရှင်းသောဝိညာဉ်တော်ကိုရှုတ်
ချ၍ဖြစ်မှားသောသူ၏အပြစ်ကိုယခုဘဝ၊ နောင်
၃၃ ဘဝ၌မလွှတ်နိုင်။- အသီးအားဖြင့် အပင်၏သ
ဘောထင်ရှားသည်ဖြစ်၍၊ အသီးကောင်းလျှင်
အပင် ကောင်း သည် ဟု ဆို ကြလော့၊ အသီး မ
ကောင်းလျှင် အပင်မကောင်းဟု ဆိုကြလော့။-
၃၄ အချင်းမြွေဆိုးအမျိုးတို့၊သင်တို့သည်အဆိုးဖြစ်
လျက် ကောင်းသောစကားကို အဘယ်သို့ပြော
နိုင်မည်နည်း။ မိတ်နှလုံး၌ အပြည့်ရှိသည် အ
၃၅ တိုင်းနှုတ်မြွက်တတ်၏။- ကောင်းသောသူသည်
ကောင်း သော မိတ် နှလုံး ဘဏ္ဍာ တိုက် ထဲက
ကောင်းသော အရာတို့ကို ထုတ်ဖော်တတ်၏၊ မ
ကောင်းသော သူသည် မ ကောင်း သော ဘဏ္ဍာ
တိုက်ထဲကမကောင်းသောအရာတို့ကိုထုတ်ဖော်
၃၆ တတ်၏။-ငါဆိုသည်ကား၊လူတို့သည်အကျိုးမဲ့
သော စကားကို ပြောသမျှအတွက်၊ တရားဆုံး
ဖြတ်သောနေ့၌ စစ်ကြောခြင်းကို ခံရကြလတ့်၊
သင့်စကားများအားဖြင့် သင်သည်အပြစ်လွှတ်
၃၇ လိမ့်မည်။-သို့မဟုတ်၊ သင့်စကားများအားဖြင့်
အပြစ်စီရင်ခြင်းကိုခံရလိမ့်မည်ဟုမိန့်တော်မူ၏။
၃၈ ထိုအခါ အချို့သောကျမ်းပြုဆရာနှင့် ဖာရိရှဲ
တို့က၊ အရှင်ဘုရား၊ အကျွန်ုပ်တို့သည် ကိုယ်
တော်ပြတော်မူသော နိမိတ်လက္ခဏာ ထုံးတခု
၃၉ ကိုမြင်ချင်ပါသည်ဟုလျှောက်ကြလျှင်၊- ကိုယ်
တော်က၊ ဆိုးညစ်၍မျောက်မထားသောအမျိုး
သည် နိမိတ် လက္ခဏာ ကို တောင်း သည် မှာ၊
ပရောဖက်ယောနအ၏ နိမိတ်လက္ခဏာမှတပါး အ
၄၀ အယ်လက္ခဏာကိုမျှသူတို့အားမပြရ။-ယော
နသည် ငါးကြီး ဝမ်း ထဲမှာ သုံး ရက် နေရသကဲ့
သို့၊ လူသား သည် မြေကြီး ထဲမှာ သုံးရက် နေရ
၄၁ လတ့်။- တရားဆုံးဖြတ်တော်မူသောအခါ နိနေ
ဝေမြို့သားတို့သည်ဤလူမျိုးတဖက်၌ထ၍အရှုံး
ခံစေလတ့်၊ အကြောင်းမူကား၊ ထိုမြို့ သား ထို့
သည် ယောန ဟော ပြော သော စကား ကြောင့်
နောင်တရကြ၏၊ ဤအရပ်၌ကား၊ ယောနထက်
၄၂ သာ၍ ကြီးမြတ်သောသူရှိ၏။- တရားဆုံးဖြတ်
တော်မူသောအခါ တောင်ပြည်ကို အစိုးရသော
မိဖုရားသည် ဤလူ မျိုးတဖက်၌ ထ၍အရှုံးခံစေ
လတ့်၊ အကြောင်းမူကား၊ ထိုမိဖုရားသည်ရှော
လမုန် မင်းကြီး၏ ပညာ စကား ကို နားထောင်
ခြင်းငှါ မြေကြီးစွန်းမှ လာ၏၊ ဤအရပ်၌ကား၊
ရှောလမုန်ထက်သာ၍ကြီးမြတ်သောသူရှိ၏။
၄၃ ညစ်ညူးသောနတ်သည် လူထဲကထွက်လျှင်၊
ခြောက် ကပ် သော အရပ်တို့၌ လည်၍ ငြိမ်ဝပ်
၄၄ ခြင်းကိုရှာတတ်၏။-မတွေ့လျှင်၊ငါသည်ထွက်ခဲ့
သောနေမြဲအိမ်သို့ပြန်ရဦးမည်ဟုဆို၍၊ရောက်
သောအခါ ထိုအိမ်သည်လွတ်လပ်၍ သုတ်သင်
၄၅ ပြင်ဆင်လျက် ရှိသည်ကို တွေ့သော်၊- မိမိထက်
သာ၍ ညစ်ညူး သော နတ်ဆိုး ခုနစ်ယောက်ကို
ခေါ်ပြီးလျှင်ထိုလူထဲသို့ဝင်၍နေကြ၏၊ ထိုလူ၏
နောက်ဖြစ်ဟန်သည် ရှေ့ဖြစ်ဟန်ထက် သာ၍
ဆိုး၏၊ ဆိုးညစ်သောဤလူမျိုး၌ ထိုနည်းတူဖြစ်
လတ့်ဟုမိန့်တော်မူ၏။
၄၆ ထိုသို့ ပရိသတ် တို့အား ဟော တော် မူစဉ်
တွင်၊မယ်တော်နှင့် ညီတော်တို့သည်နှုတ်ဆက်
လို၍ ပြင်မှာ ရပ် နေကြ၏။- လူ တယောက်က
လည်း၊ မယ်တော်နှင့် ညီတော်တို့သည် ကိုယ်
တော်နှင့်နှုတ်ဆက်လို၍ ပြင်မှာ ရပ်နေကြပါ၏
၄၇ ဟုလျှောက်လျှင်၊- ကိုယ်တော်က၊ ငါ့အမိ၊ ငါ့ညီ
၄၈ ကားအဘယ်သူနည်းဟု မေးတော်မူ၏။- လက်
တော်ကိုလည်းဆန့်၍ တပည့်တော်တို့ကို ညွှန်
လျက်၊ ဤ သူတို့သည် ငါ့အမိ၊ ငါ့ညီ ပေတည်း။-
၅၀ ကောင်းကင်ဘုံ၌ ရှိတော်မူသော ငါ့အဘ၏ အလို
တော်ကိုဆောင်သောသူသည်ငါ့ညီ၊ ငါ့နှမ၊ငါ့အ
မိဖြစ်သတည်းဟုမိန့်တော်မူ၏။

၁၃

၁ ထိုနေ့၌ ယေရှုသည်အိမ်ကထွက်၍ အိုင်နား
၂ မှာထိုင်နေတော်မူသည်တွင်၊- များစွာသောလူအ
ပေါင်းတို့သည် ကိုယ် တော်ကို ခန်းရံ၍ စုဝေး
လျက် ရှိကြသောကြောင့်၊ လှေထဲသို့ ဝင်၍ ထိုင်
တော်မူ၏၊ ပရိသတ် အ ပေါင်း တို့သည် ကုန်း
၃ ပေါ်မှာရပ်နေကြ၏။- ထိုအခါဥပမာစကားများ
တို့ကိုမြွက်ဆိုတော်မူသည်မှာ၊ မျိုးစေ့ကြဲသော
၄ သူသည်မျိုးစေ့ကိုကြဲခြင်းငှါထွက်သွား၏။- အ
စေ့ကို ကြဲသည်တွင်၊ အချို့သော အစေ့တို့သည်
လမ်းနား၌ကျသဖြင့်၊ ငှက်တို့သည်လာ၍ ကောက်

၅ အချို့သောအစေ့တို့သည် မြေနည်း၍ကျောက်ပေါ်ရှားသောအရပ်၌ကျသဖြင့်၊မြေ
နက်စွာမရှိသောကြောင့် ချက်ချင်း အပင်ပေါက်သော်
၆ လည်း၊-နေထွက်သောအခါ ပူလောင်သည်ဖြစ်၍အမြစ်မစွဲသောကြောင့် ညှိုးနွမ်းခြောက်သွေ့ခြင်း
၇ သို့ရောက်ကြ၏၊- အချို့သောအစေ့တို့သည်ဆူး
ပင်တို့တွင်ကျသဖြင့်၊ ဆူးပင်တို့သည်ကြီးပွား၍
၈ ညှဉ်းဆဲကြ၏၊- အချို့သောအစေ့တို့သည်
ကောင်းသောမြေ၌ ကျသဖြင့်၊ အဆသုံးဆယ်၊
အဆခြောက်ဆယ်၊အဆတရာပွားများ၍အသီး
၉ သီးကြ၏၊- ကြားစရာနားရှိသောသူမည်သည်
ကားကြားပါစေဟုမိန့်တော်မူ၏။
၁၀ တပည့်တော်တို့သည် ချဉ်းကပ်လျှက်၊ ကိုယ်
တော်သည်အဘယ်ကြောင့် ဥပမာကိုဆောင်၍
ဤလူတို့အား ဟောပြောတော်မူသနည်းဟု မေး
၁၁ လျှောက်ကြလျှင်၊-ကိုယ်တော်က၊သင်တို့သည်
ကောင်းကင်နိုင်ငံတော်၏နက်နဲသောအရာတို့ကို
သိရသောအခွင့်ရှိကြ၏၊ ထိုသူတို့မူကား အခွင့်
၁၂ မရှိကြ၊- အကြင်သူသည် ရတတ်၏၊ ထိုသူ၌
ကြွယ်ဝပြည့်စုံစေခြင်းငှါ ပေးဦးမည်၊ အကြင်
သူသည်ဆင်းရဲ၏၊ ထိုသူ၌ရှိသမျှကိုပင်နှုတ်ယူလိမ့်
၁၃ မည်၊- ထိုကြောင့်၊ သူတို့သည် မြင်လျှက်မမြင်၊
ကြားလျှက်မကြား၊အနက်ကိုထည်းနားမလည်
သောကြောင့် ဥပမာကိုဆောင်၍ ငါဟောပြော
၁၄ ၏၊-ဟေရှာယဟောသောအနာဂတ်စကား
ဟူမူကား၊ သင်တို့သည် ကြားလျှက်ပင် အနက်
ကိုနားမထည်သဲ ကြားကြလိမ့်မည်၊ မြင်လျှက်
၁၅ ပင်အဘယ်မျှမရှုဘဲမြင်ကြလိမ့်မည်၊-အကြောင်းမူ
ကား၊ ဤလူမျိုးသည်မျက်စိမမြင်၊ နားမကြား၊
စိတ်နှလုံးမသိ၊ အကျင့်မပြောင်းလဲ၊ သူတို့အ
နာရောဂါကို ငါမငြိမ်းစေရသည် တိုင်အောင်၊
သူတို့ စိတ်နှလုံးသည် မိုက်လျှက်၊ နားသည်
ထိုင်းလျှက်၊ ကိုယ်မျက်စိကို မိတ်လျှက်ရှိကြ၏
ဟူသောစကားသည် ဤလူတို့၌ ပြည့်စုံခြင်းသို့
၁၆ ရောက်သတည်း၊-သင်တို့မျက်စိသည်မြင်သော
ကြောင့် မင်္ဂလာရှိ၏၊ သင်တို့နားသည် ထည်း
၁၇ ကြားသောကြောင့် မင်္ဂလာရှိ၏၊- ငါ အမှန်ဆို
သည်ကား၊ သင်တို့မြင်ရသောအရာတို့ကိုပရော
ဖက်များနှင့် ဖြောင့်မတ်သော သူများ ထိုသည်
မြင်ခြင်းငှါအလိုရှိသော်လည်းမမြင်ရကြ၊ သင်
တို့ကြားရသော အရာတို့ကိုကြားခြင်းငှါ အလို
ရှိသော်လည်းမကြားရကြ။

၁၈ မျိုးစေ့ကြဲသောသူ၏ဥပမာအနက်အဓိပ္ပါယ်
၁၉ ကို နားထောင်ကြလော့၊- ထမ်း၌ အစေ့ကို ကြဲ
ခြင်းအကြောင်းအရာကား၊ နိုင်ငံတော်၏ တရား
စကားကို ကြား၍ နှလုံးမသွင်းသည်ရှိသော်၊
နတ်ဆိုးလာ၍နှလုံး၌ကြဲသောအစေ့ကိုနှုတ်ယူ
၂၀ တတ်သည်ဟု ဆိုလိုသတည်း၊- ကျောက်ပေါ
သောအရပ်၌ အစေ့ကိုကြဲခြင်းအကြောင်းအရာ
ကား၊ တရားစကားကို ကြား၍ ဝမ်းမြောက်
၂၁ သောစိတ်နှင့်ချက်ချင်းခံယူသော်လည်း၊- စိတ်
နှလုံး၌အမြစ်မစွဲ၊ခဏသာတည်သဖြင့်၊တရား
စကားကြောင့်အမှုအခင်းနှင့်ညှဉ်းဆဲခြင်းကိုခံ
ရသောအခါချက်ချင်းဖောက်ပြန်တတ်သည်ဟု
၂၂ ဆိုလိုသတည်း၊- ဆူးပင်တို့တွင် အစေ့ကို ကြဲ
ခြင်းအကြောင်း၊ အရာကား၊ တရားစကားကို
ကြား၍ လောကီအမှု၌ စိုးရိမ်ခြင်းနှင့်စည်းစိမ်
ဥစ္စာ၏လှည့်စားခြင်းသည်တရားစကားကိုလွှမ်း
မိုးညှဉ်းဆဲတတ်သောကြောင့် အသီးမသီးနိုင်
၂၃ ဟုဆိုလိုသတည်း၊- ကောင်းသောမြေ၌ အစေ့
ကိုကြဲခြင်းအကြောင်းအရာကား၊ တရားစကား
ကိုကြား၍ နှလုံးသွင်းသဖြင့်၊ အဆသုံးဆယ်၊
အဆခြောက်ဆယ်၊ အဆတရာ ပွားများ၍ အ
သီးသီး တတ်သည်ဟု ဆိုလိုသ တည်းဟု မိန့်
တော်မူ၏။
၂၄ အခြားသောဥပမာစကားကို မိန့်မြွက်တော်မူ
သည်ကား၊ကောင်းကင်နိုင်ငံတော်သည်ကောင်း
သောမျိုးစေ့ကို ထယ်၌ ကြဲသောသူနှင့် တူ၏၊-
၂၅ လူတို့သည်အိပ်ပျော်သောအခါ သူ၏ရန်သူသည်
လာ၍၊ကောင်းသောစပါးနှင့်ထကျဏာတူသော
တောမျိုးစေ့ကိုစပါးအထဲ၌ကြဲ၍သွားလေ၏၊-
၂၆ အပင်ပေါက်၍ အသီးအနှံ့ထွက်သော အခါ
၂၇ တောပင်များလည်းထင်ရှားလျှင်၊-ကျွန်တို့သည်
အိမ်ရှင်ထံသို့သွား၍၊ သခင်၊ ကောင်းသောမျိုး
စေ့ကို ထယ်၌ ကြဲတော်မူသည် မဟုတ်လော၊
တောပင် တို့သည် အဘယ်က ဖြစ်သ နည်း ဟု
၂၈ လျှောက်ကြလျှင်၊- အိမ်ရှင်က၊ဤအမှုကားရန်
သူပြုသောအမှုတည်းဟုဆို၏၊အကျွန်ုပ်တို့သည်
သွား၍တောပင်တို့ကိုရွေးနှုတ်စေခြင်းငှါ အလို
၂၉ တော်ရှိသလောဟုလျှောက်ကြလျှင်၊- အိမ်ရှင်
က၊ ထိုသို့ငါအလိုမရှိ၊ တောပင်တို့ကို ရွေးနှုတ်
လျှင်၊ စပါးပင်တို့ကို ရောနှော၍ နှုတ်မိမည်စိုး
၃၀ ရိမ်စရာအကြောင်းရှိ၏၊- စပါး ရိတ်သည်ကာ
လတိုင်အောင်အပင်နှစ်မျိုးထိုသည် အတူကြီး

ပွား၍ပါစေ။ စပါးရိတ်သည့်ကာလ ရောက်
လျှင်၊ တောပင်တို့ကို ရှေဦးစွာ ရွေး နှုတ်၍ မီး ရှို့
ခြင်းငှါစည်းနှောင်ကြလော့။ စပါးကို ကား ကျီ၌
စုသိမ်း သွင်းထားကြလော့ဟု၊ ရိတ်သောသူတို့
အား ငါ မှာရင်မည်ဟု၊ အိမ်ရှင် ဆိုသည်ဟု မိန့်
တော်မူ၏။
၃၁ အခြားသောဥပမာစကားကိုမိန့်မြွက်တော်မူ
သည်ကား၊ ကောင်းကင်နိုင်ငံတော်သည် လယ်
၃၂ ၌မိုက်သော မုန်ညင်းစေ့နှင့်တူ၏၊- မုန်ညင်းစေ့
သည်အစေ့တကာတို့ထက်ငယ်သော်လည်း၊ ကြီး
ပွားသောအခါ မြက်ပင်တကာတို့ထက် ကြီးသ
ဖြင့်၊ မိုဃ်းကောင်းကင် ငှက် တို့သည် လာ၍ အ
ကိုင်းအခက်တို့၌နားနေမှီခိုလောက်သောအပင်
ဖြစ်တတ်သည်ဟုမိန့်တော်မူ၏။
၃၃ အခြားသောဥပမာစကားကို မိန့်မြွက်တော်မူ
သည်ကား၊ ကောင်းကင်နိုင်ငံတော်သည်တဆေး
နှင့်တူ၏၊ မိန်းမသည်တဆေးကိုယူ၍ မုန့်ညက်သုံး
တင်း၌ထည့်သဖြင့်၊ မုန့်ညက်ရှိသမျှကို ဖောင်း
ကြွစေတတ်သည်ဟုမိန့်တော်မူ၏။
၃၄ ယေရှုသည် ဤ ဥပမာ များ တို့ကို ဆောင်၍
ပရိသတ်များတို့အားဟောပြောတော်မူ၏၊ ဥပ
၃၅ မာကင်း၍ ဟောပြော တော်မမူ။- ထိုသို့သော
အားဖြင့် ပရောဖက်စကားဟူမူကား၊ ငါသည်
နှုတ်ကို ဖွင့်၍ ဥပမာ များကို မြွက် ဆို ပေ အံ့၊
ကမ္ဘာဦးမှစ၍ထိမ်ဝှက်သောအရာတို့ကို ဖော်ပြ
ပေအံ့ဟု ဟော ဘူး သော စကား သည် ပြည့်စုံ
ခြင်းသို့ရောက်သတည်း။
၃၆ ထိုနောက်မှယေရှုသည်လူအစုအဝေးများကို
လွှတ်၍ အိမ်သို့ ဝင်တော်မူပြီးမှ၊ တပည့်တော်
တို့သည်ချဉ်းကပ်၍၊ လယ်၌ကြဲသောတောမျိုး
စေ့၏ ဥပမာ အနက် အဓိပ္ပာယ်ကို အကျွန်ုပ် တို့
အား ဖော်ပြ တော်မူပါဟု လျှောက် ကြ လျှင်၊-
၃၇ ကိုယ်တော်က၊ ကောင်းသောမျိုးစေ့ကိုကြဲသော
၃၈ သူသည်လူသားဖြစ်၏၊- လယ်ကား ဤလောက
ဖြစ်၏၊ ကောင်းသောအစေ့ကားနိုင်ငံတော်သား
ဖြစ်၏၊ တောမျိုးစေ့ကား နတ်ဆိုးသားဖြစ်၏၊-
၃၉ တောမျိုးစေ့ကို ကြဲသော ရန်သူကား မာရ်နတ်
ဖြစ်၏၊ စပါးရိတ်သောကာလကား ဤကမ္ဘာကုန်
သော ကာ လ ဖြစ် ၏၊ စပါး ရိတ် သော သူ ကား
၄၀ ကောင်းကင်တမန်ဖြစ်၏၊- တောပင်တို့ကို ရွေး
နှုတ်၍မီး ရှို့သကဲ့သို့ဤကမ္ဘာအဆုံး၌ဖြစ်လတံ့၊-
၄၁ လူသားသည် မိမိ ကောင်းကင် တမန်တို့ကို စေ

လွှတ်ပြီးလျှင်၊ မှားယွင်းစေသော သူတို့နှင့်၊ မ
တရားသောအမှုကိုပြုသောသူရှိသမျှတို့ကိုနိုင်ငံ
၄၂ တော်ထဲကရွေးနှုတ်၍၊- ငိုကြွေးခြင်း၊ အံသွားခဲ
၄၃ ကြိတ် ခြင်း ရှိရာ၊ မီးဖို၌ ချ ကြလတံ့၊- ထိုအခါ
ဖြောင့်မတ်သောသူတို့သည်နေထွန်းလင်းသကဲ့
သို့ မိမိတို့အဘ၏ နိုင်ငံတော်၌ ထွန်းလင်း ကြလ
တံ့၊ ကြား စရာ နား ရှိသောသူ မည်သည်ကား
ကြားပါစေ။
၄၄ တနည်းကား၊ ကောင်းကင် နိုင်ငံ တော် သည်
လယ်၌ ဝှက်ထား သော ဘဏ္ဍာ နှင့် တူ၏၊ ထို
ဘဏ္ဍာကို တွေ့သောသူသည် တဖန် ဖုံးအုပ်၍၊
ဝမ်းမြောက်သောစိတ်နှင့်သွားပြီးလျှင်၊ရတတ်
သမျှကိုရောင်း၍ထိုလယ်ကိုဝယ်တတ်၏။
၄၅ တနည်းကား၊ ကောင်းကင် နိုင်ငံ တော်သည်
မြတ်သောပုလဲတို့ကို ရှာသောကုန်သည်နှင့် တူ
၄၆ ၏၊-ထိုကုန်သည်သည်အဖွန်အဘိုးထိုက်သော
ပုလဲကိုတွေ့သောအခါ၊ သွား၍ မိမိ၌ ရတတ်သ
မျှကိုရောင်းပြီးလျှင်ထိုပုလဲကိုဝယ်လေ၏။
၄၇ တနည်းကား၊ကောင်းကင်နိုင်ငံတော်သည်ပင်
လယ်၌ချ၍အမျိုးမျိုးသောငါးတို့ကိုအုပ်မိသော
၄၈ ပိုက်ကွန်နှင့်တူ၏၊- ငါးနှင့်အပြည့်ရှိသောအခါ
တံငါတို့သည်ကုန်းပေါ်သို့ဆွဲတင်၍ ထိုင်လျက်၊
ကောင်းသောငါးကို ခြင်းထဲသို့ ရွေးချယ်ထည့်
ထား၍၊ မကောင်းသောငါးကို ပြင်သို့ပစ်လိုက်
၄၉ ကြ၏၊- ထိုနည်းတူ၊ကမ္ဘာအဆုံး၌ကောင်းကင်
တမန်တို့သည် ဆင်းလာ ပြီးလျှင်၊ ဖြောင့် မတ်
သောသူတို့ အထဲမှ ဆိုးသောသူတို့ကို နှုတ်ထုတ်၍
၅၀ ထား၍၊- ငိုကြွေးခြင်း၊ အံသွား ခဲကြိတ်ခြင်းရှိ
၅၁ ရာ၊ မီးဖို၌ချကြလတံ့၊- ဤအရာ အလုံးစုံတို့ကို
သင်တို့သည်နားလည်ကြသလောဟုမေးတော်
မူလျှင်၊နားလည်ပါပြီသခင်ဟု၊တပည့်တော်တို့
၅၂ သည်လျှောက်ကြ၏၊- ကိုယ်တော်ကလည်း၊သို့
ဖြစ်၍၊ ကောင်းကင်နိုင်ငံတော်၏ အကြောင်းအ
ရာကိုသင်ပြီးသော ကျမ်းဆရာမည်သည်ကား၊
မိမိဘဏ္ဍာထဲက အထူးထူးအပြားပြားသောအ
သစ် အဟောင်းတို့ကို ထုတ်ဖော်သော အိမ်ရှင်
၅၃ နှင့်တူသည်ဟုမိန့်တော်မူ၏၊- ထိုဥပမာ စကား
များကို အကုန်အစင် မိန့်မြွက်တော်မူပြီးလျှင်၊
ထိုအရပ်မှကြွသွားတော်မူ၏။
၅၄ ထိုနောက်မှမိမိမြို့သို့ ရောက်တော်မူ၍ တရား
ဇရပ်၌ ဆုံးမဩဝါဒပေးလေ၏၊ မြို့သားတို့သည်
မိန်းမောတွေဝေခြင်းရှိကြသဖြင့်၊ ဤသူသည် ဤ

ဉာဏ်ပညာရှိရန်၊ ဤတန်ခိုးရှိရန် အဘယ်မှာ ရသ
၅၅ နည်း။–ဤသူသည်လက်သမား၏သားမဟုတ်လော။
ထိုသူ၏အမိသည် မာရိအမည်ရှိသည် မဟုတ်လော။
ညီကားယာကုပ်၊ယောသေ၊ ရှိမုန်၊ ယုဒတို့
၅၆ ဖြစ်သည် မဟုတ်လော။– ထိုသူ၏နှမများသည်
ငါတို့နှင့် အတူမနေကြသည် မဟုတ်
လော၊ ထိုသို့ဖြစ်လျှင်၊ ဤသူသည် ဤအရာများကို
၅၇ အဘယ်မှာရသနည်းဟု ပြောဆိုလျက်၊– စိတ်
နာမိတ်ဖွဲ့ကြ၏။ ယေရှုကလည်း၊ ပရောဖက်
သည်မိမိမြို့၊ မိမိအိမ်မှတပါး၊ အခြားသော အရပ်
၌အသရေရှိသည်ဟု၊ ထိုသူတို့အား မိန့်တော်မူ
၅၈ ၏။– မြို့သားများတို့သည် မယုံကြည်ကြသော
ကြောင့်၊ ထိုအရပ်၌ များစွာသော တန်ခိုးကို ပြ
တော်မမူ။

၁၄

၁ ထိုအခါ ခေတ်တွင်၊ ဟေရုဒ်သည် ယေရှု၏ သိ
၂ တင်းတော်ကို ကြားလျှင်၊– ဤသူကား နှစ်ခြင်း
ဆရာယောဟန်ဖြစ်သည်။ သေခြင်းမှထမြောက်
လေပြီ၊ ထိုကြောင့်၊ တန်ခိုးများကို ပြနိုင်သည်
၃ ဟု မိမိ ငယ်သားတို့အား ဆို၏။– အထက်က
ဟေရုဒ်သည် မိမိညီ ဖိလိပ္ပု၏ ခင်ပွန်း၊ ဟေရော
ဒိအ ကြောင်း ကြောင့်၊ ယောဟန်ကို ဖမ်း ဆီး
၄ ချည်နှောင်၍ ထောင်ထဲမှာ ချုပ်ထား၏။– အ
ကြောင်းမူကား၊ ယောဟန်က၊ ထိုမိန်းမကို
သင့်ထိုက်စွာ မသိမ်းအပ်ဟု ဟေရုဒ်အား ဆို
၅ လေပြီ။– ယောဟန် ကို သတ် ခြင်းငှါ အလို ရှိ
သော် လည်း၊ လူ အ ပေါင်း တို့ ၏ ရှုတ် ချ ကို
ကြောက်၍မသတ်ဝံ့ဘဲနေ၏။ အကြောင်းမူကား၊
ထိုသူတို့သည်ယောဟန်ကို ပရောဖက်ကဲ့သို့ ထင်
မှတ်ကြသတည်း။
၆ ထိုနောက်မှ ဟေရုဒ်ကို ဖွားသောနေ့ရက်၌ နှစ်
စည်ပွဲခံစည်တွင်၊ ဟေရောဒိ၏ သမီးသည် ပွဲသ
ထင်၌ကခြင်းငှါ ဟေရုဒ်သည် နှစ်သက်သော စိတ်
၇ ရှိလျှင်၊–ငါသည်သင်တောင်းသမျှကိုပေးမည်ဟု
၈ ကျိန်ဆိုလေ၏။–ထိုမိန်းမငယ်သည်သူ၏အမိတိုက်
တွန်းသည်အတိုင်း၊ နှစ်ခြင်းဆရာ ယောဟန်၏
ဦးခေါင်းကို ဤ ထင်ပန်း၌ ပေး တော် မူပါဟု
၉ တောင်းလျှောက်၏။– မင်းကြီးသည် ဝမ်းနည်း
သော်လည်း၊ ကျိန်ဆိုခြင်းကိုငဲ့၍၊ အပေါင်းအဖော်
တို့၏ မျက်နှာကိုငဲ့၍ ထောက်သောကြောင့်၊ ပေး
၁၀ စေဟု အမိန့် တော်ရှိလျှင်၊– လူကို စေလွှတ်၍
ယောဟန်၏ လည်ပင်းကို ထောင်ထဲမှာဖြတ်စေ
၁၁ ၏။– ဦးခေါင်းကိုထင်ပန်း၌ ဆောင်ခဲ့၍ ထိုမိန်း
ကလေးအားပေးပြီးမှ၊သူသည်လည်း မိမိအမိထံသို့ယူ
၁၂ သွား၏။–ယောဟန်၏တပည့်တို့သည်လည်းလာ
၍ အလောင်းကိုဆောင်သွား၍ သင်္ဂြိုဟ်
ပြီးမှ၊ ယေရှုထံတော်သို့ သွား၍ကြား လျှောက်
၁၃ ကြ၏။–ယေရှုသည်ကြားတော်မူလျှင်၊ထိုအရပ်
မှထွက်၍ လှေကိုစီးလျက်တော၌ ဆိတ်ကွယ်ရာ
အရပ်သို့ ကြွတော်မူ၏။ လူအစုအဝေးတို့သည်
ကြားသိရလျှင်၊ မြို့ရွာမှ ထွက်၍ ကုန်းကြောင်း
၁၄ လိုက်ကြ၏။– ယေရှုသည် ထွက်ကြွ၍ လူများအ
ပေါင်းတို့ကို တွေ့မြင်တော်မူလျှင်၊ သနားခြင်း
စိတ်တော်ရှိ၍ လူနာရှိသမျှတို့ကို ချမ်းသာ ပေး
တော်မူ၏။
၁၅ ညဦးယံ၌ တပည့်တော်တို့သည် ချဉ်းကပ်၍၊
ဤ အရပ် သည် တော အရပ် ဖြစ်ပါ၏၊ မိုဃ်း
လည်းချုပ်ပါပြီ၊ လူအစုအဝေးတို့သည် မြို့ရွာ
သို့သွား၍စားစရာကိုဝယ်စေခြင်းငှါ အခွင့်ပေး
၁၆ တော်မူပါဟုလျှောက်ကြလျှင်၊–ယေရှုက၊သွား
ရသောအကြောင်းမရှိ၊ သူတို့စားစရာကို သင်တို့
၁၇ ပေးကြလော့ဟုမိန့်တော်မူ၏။– တပည့်တော်တို့
ကလည်း၊ မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်မှတပါး
အထယ် စား စရာ မျှ အကျွန်ုပ် တို့ ၌ မရှိ ပါဟု
လျှောက်ပြန်လျှင်၊ ထိုမုန့်နှင့် ငါးကို ယူခဲ့ကြဟု
၁၈ မိန့် တော်မူ၏။– ထိုအခါ လူအစုအဝေး တို့ကို
မြက်ပင်ပေါ်မှာ လျောင်းကြစေဟုအမိန့်တော်ရှိ
၁၉ ၏။–မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်ကို ယူ၍
ကောင်းကင်သို့ကြည့်မျှော်လျက်ကျေးဇူးတော်
ကိုချီးမွမ်းပြီးမှ မုန့်နှင့်ငါးကိုဖဲ့၍ တပည့်တော်
၂၀ တို့အား ပေးတော်မူ၏။– တပည့်တော်တို့သည်
လည်း လူ အ ပေါင်း တို့ အား ပေး ကြ ၏၊ လူ အ
ပေါင်းတို့သည်စား၍ဝကြပြီးမှ ကြွင်းရစ်သော
အကျိုး အပဲ့ ကို ကောက် သိမ်း ၍ တ ဆယ့် နှစ်
၂၁ တောင်းအပြည့်ရကြ၏။– စားသောသူကားရေ အ
တွက်ကား၊မိန်းမနှင့်သူငယ်ကိုမဆိုဘဲ၊ယောကျ်ား
ငါးထောင်မျှလောက်ရှိသတည်း။
၂၂ ယေရှုသည် စည်းဝေးသော သူတို့ကို လွှတ်
တော်မူစဉ်တွင်၊တပည့်တော်တို့ကိုလှေစီးစေ၍
၂၃ ကမ်းတစ်ဘက်သို့ အရင်ကူးစေတော်မူ၏။– စည်း
ဝေးသောသူတို့ကိုလွှတ်ပြီးမှ၊ဆုတောင်းအံ့
သောငှါ တောင်ပေါ်၌ ဆိတ်ကွယ်ရာ အ
ရပ်သို့တက်ကြွသဖြင့်၊ညဉ့်မိုက်သောအ
၂၄ ခါတစ်ယောက်တည်းရှိနေတော်မူ၏။–လှေမူကား

လှိုင်းအလယ်၌ရှိ၍၊လေမသင့်သောကြောင့်လှိုင်း
၂၅ တံပိုး လှုပ်ရှားခြင်းကို ခြင်းခွာခံရ၏။- ညသုံး
ချက်တီးကျော်အချိန်၌ ယေရှုသည် ပင်လယ်ပေါ်မှာ
စကြံတော်မြန်လျှက်တပည့်တော်တို့ရှိရာသို့ကြွ
၂၆ တော်မူ၏။- ထိုသို့ ပင်လယ်ပေါ်မှာ စကြံတော်မြန်၍
ကြွတော်မူသည်ကို သူတို့သည် မြင်လျှင် ထိတ်
လန့်၍၊ ဖုတ် စေ့ ဖြစ်သည်ဟု ကြောက် သော
၂၇ စိတ်နှင့်အော်ဟစ်ကြ၏။-ယေရှုသည် ချက်ချင်း
နှုတ်ဆက်၍၊ တည်ကြည်သောစိတ်ရှိကြလော့၊
ငါပင်ဖြစ်သည်၊ မကြောက်လန့်ကြနှင့်ဟု မိန့်
၂၈ တော်မူ၏။-ပေတရုကလည်း၊ သခင်ကိုယ်တော်
မှန်လျှင်၊ အကျွန်ုပ်သည် ကိုယ်တော်ထံသို့ ရေ
ပေါ်မှာ လာရမည်အကြောင်း မိန့် တော်မူပါဟု
၂၉ လျှောက် လျှင်၊- လာခဲ့လော့ဟု မိန့် တော် မူ၏၊
ပေတရုသည် လှေပေါ်က ဆင်း၍ ယေရှုထံသို့
၃၀ ရောက်အံ့သောငှါရေပေါ်မှာသွားစဉ်၊-လေ
ပြင်းသည်ကို မြင်လျှင် ကြောက်လန့်၍ နစ်မြုပ်
လုသည် ရှိသော်၊ ကယ် မ တော် မူပါ သခင် ဟု
၃၁ ဟစ်ကြော်သော်၊- ယေရှုသည် လက် တော်ကို
ချက်ချင်း ဆန့်၍ ပေတရု ကို ကိုင် တော်မူလျှက်၊
ယုံကြည် အားနည်း သောသူ၊ အဘယ် ကြောင့်
ယုံမှားသောစိတ်ဝင်သနည်းဟု မေးတော်မူ၏။-
၃၂ လှေ ပေါ်သို့ ရောက်ကြလျှင် လေသည် ငြိမ်းလေ
၃၃ ၏။-လှေသားတို့သည်ချဉ်းကပ်၍၊စင်စစ်ကိုယ်
တော်သည်ဘုရားသခင်၏သားတော်မှန်ပါသည်
ဟု၊ရှိခိုးပြပ်၍လျှောက်ကြ၏။
၃၄ ကမ်းတဖက်သို့ ကူးလျှင် ဂနေသရက်နယ်သို့
၃၅ ရောက်ကြ၏။- ထိုအရပ်သားတို့သည် ရှင်ဘုရား
တော်ကိုမှတ်မိလျှင်၊ပတ်ဝန်းကျင်အရပ်ရှိသမျှ
သို့ စေလွှတ်သဖြင့် လူနာ ရှိသမျှ တို့ကို ဆောင်ခဲ့
၃၆ ၍၊- အဝတ်တော်၏ ပန်းပွား ကိုမျှသာ တို့ရပါ
မည် အကြောင်း အခွင့် တောင်း ကြ၏၊ တို့သမျှ
သောသူတို့သည် အနာ ချမ်းသာရကြ၏၊

၁၅

၁ ထိုအခါ ယေရုရှလင်မြို့သား ဝါရိရှဲ တို့နှင့်
၂ ကျမ်းပြုဆရာတို့သည်ချဉ်းကပ်ပြီးလျှင်၊- ရှေး
လူဟောင်းတို့မှ ဆက်ခံသော နည်း ဥပဒေသကို
ကိုယ်တော်၏တပည့်တို့သည် အဘယ်ကြောင့်
လွန်ကျူးကြ ပါသနည်း၊ သူတို့ သည် လက် မ
ဆေးဘဲ အစာစားကြပါသည်တကားဟုလျှောက်
၃ ကြလျှင်၊- ကိုယ်တော်က၊သင်တို့သည်အဆက်
ဆက် ခံသော နည်းဥပဒေသကိုအမှီပြု၍ ဘုရား
သခင်၏ ပညတ်တော်ကို အဘယ်ကြောင့် လွန်
၄ ကျူးကြသနည်း။- ဘုရားသခင်၏ပညတ်တော်
ကား၊ မိဘကိုရိုသေစွာပြုလော့၊ အကြင်သူသည်
မိဘကို ကျိုန်ဆဲပြစ်မှားအံ့၊ ထိုသူသည် အသေ
၅ သတ်ခြင်းကို ခံစေဟု ထားသတည်း။- သင်တို့မူ
ကား၊ အကြင်သူသည် ကိုယ်မိဘကို၊ သင်တို့အ
သုံးရနိုင်သမျှသောငါ၏ ဥစ္စာသည် အလှူဝတ္ထု
၆ ဖြစ်စေဟု ဆို၏။- ထိုသူသည် ကိုယ်မိဘကိုပင်ရို
သေစွာမပြုရဟုဆိုကြ၏၊ ထိုသို့သင်တို့သည်အ
ဆက် ဆက် ခံသော နည်း ဥပဒေသ အား ဖြင့်
၇ ဘုရားသခင်၏ပညတ်တော်ကိုပယ်ကြ၏။- လျှို့
ဝှက်သောသူတို့၊ဟေရှာယသည်သင်တို့ကိုရည်
မှတ်လျက်၊ ဤလူမျိုးသည် နှုတ် နှင့်ငါ့ထံသို့ချဉ်း
ကပ်၍ နှုတ်ခမ်းနှင့် ငါ့ကို ရိုသေကြ၏၊ စိတ်နှင့်
၈-၉ ဝေးကွာ၏။- လူတို့မိရင်သော
ပညတ် တို့ ကို သွန် သင်၍ နည်း ဥပ ဒေ သ ပေး
လျက်ပင်၊ ငါ့ကို အချည်း နှီး ကိုးကွယ် ကြ၏ဟု၊
နောက်ဖြစ်လတံ့သောအရာကိုလျှောက်ပတ်စွာ
ဟောခဲ့ပြီဟုပြန်၍မိန့်တော်မူ၏။
၁၀ ထိုအခါ လူအစုအဝေးကို အထံတော်သို့ ခေါ်
၁၁ ၍၊ သင်တို့နား ထောင် နား လည်ကြလော့။- ခံ
တွင်းသို့ ဝင်သော အရာသည် လူကို ညစ်ညူးစေ
သည်မဟုတ်၊ ခံတွင်းမှ ထွက်သော အရာသည်
ညစ်ညူး စေသော အရာဖြစ်သည်ဟု မိန့် တော်မူ
၁၂ ၏။- တပည့်တော်တို့သည်ချဉ်းကပ်၍၊ထိုမိန့်
တော် မူသော စကားကို ဖာရိရှဲ တို့သည် ကြား
သော အခါ၊ စေတနာ စိတ်ပျက် ကြသည်ကို သိ
၁၃ တော်မူသလောဟုလျှောက်ကြ၏။- ကိုယ်တော်
ကလည်း၊ ကောင်းကင်ဘုံ၌ရှိတော်မူသောငါ၏
ခမည်းတော် စိုက် တော် မမူသောအပင် ရှိသမျှ
၁၄ တို့ကိုနှုတ်ရလိမ့်မည်။-ထိုသူတို့ကိုရှိပါစေ၊
သူတို့ သည် လူကန်း တို့ အား ထမ်း ပြ သော လူ
ကန်းဖြစ်ကြ၏၊လူကန်းချင်းတဦးကို တဦးလမ်း
ပြလျှင်၊နှစ်ဦးတို့သည်တွင်းထဲသို့ကျကြလိမ့်မည်
၁၅ ဟုမိန့်တော်မူ၏၊-ပေတရုကလည်း၊ထိုဥပမာကို
အကျွန်ုပ်တို့အား ရှင်း ပြတော် မူပါဟု လျှောက်
၁၆ လျှင်၊- ယေရှုက၊သင်တို့သည် ထိုမျှ ထိုင်းအောင်
၁၇ ပညာမဲ့လျက် နေသေးသလော၊- ခံတွင်းသို့ဝင်
သမျှသည် ဝမ်းထဲသို့ ဆင်း၍ ရေအိမ်တွင် စွန့်
၁၈ ပြစ်သည်ကိုနားမလည်ကြသေးသလော၊-ခံတွင်း
မှ ထွက်သော အရာမူကား၊ နှလုံး ထဲကထွက်
သော၍ လူကို ညစ်ညူး စေသော အရာဖြစ်၏။- စ

ကောင်းသော ကြံစည်ခြင်း၊ လူအသက်ကိုသတ်
ခြင်း၊ သူမယားကိုပြစ်မှားခြင်း၊ မိန်းမလွတ်နှင့်မှား
ယွင်းခြင်း၊ သူဥစ္စာကိုခိုးခြင်း၊ မမှန်သောသက်
သေကိုခံခြင်း၊ သူ့အသရေကိုဖျက်ခြင်းအရာတို့
၂၀ သည်နှလုံးထဲကထွက်လာ၍၊- လူကိုညစ်ညူး
စေသော အရာဖြစ်ကြ၏။ လက် မဆေးဘဲလျက်
အစာကိုစားခြင်းမူကား၊ လူကိုညစ်ညူးစေသည်
မဟုတ်ဟုမိန့်တော်မူ၏။
၂၁ ယေရှုသည် ထိုအရပ်မှထွက်၍ တုရုမြို့နှင့်ဇိ
၂၂ ဒုန်မြို့၏ကျေးလက်သို့ကြွတော်မူလျှင်၊- ခါနာန်
အမျိုးဖြစ်သော မိန်းမတယောက်သည် ထိုနယ်စပ်
မှထွက်လာ၍၊ ဒါဝိဒ်၏သားတော်ရှင်၊ ကျွန်မကို
သနားတော်မူပါ။ ကျွန်မ၏သမီးသည်နတ်ဆိုးနှိပ်
စက်ခြင်းကို ပြင်းစွာခံရပါသည်ဟု ဟစ်ကြော်
၂၃ သော်သည်း၊ စကားတခွန်းမျှပြန်တော်မမူ။- တ
ပည့်တော်တို့သည်ချဉ်းကပ်၍၊ ထိုမိန်းမပြန်သွား
ရသောအခွင့်ကို ပေးတော်မူပါ။ ငါတို့နောက်သို့
လိုက်၍ဟစ်ကြော်လျက်နေပါသည်ဟု လျှောင်း
၂၄ လျှောက်ကြ၏။- ကိုယ်တော်ကလည်း၊ ဣသရေ
လ အမျိုးအဝင် ပျောက်လွင့်သောသိုး များမှတ
ပါးအခြားသောအမျိုးရှိရာသို့ငါ ကို မစေမလွှတ်
၂၅ ဟုမိန့်တော်မူ၏။- ထိုမိန်းမသည် ချဉ်းကပ်၍ပြပ်
ဝပ်လျက်၊ ကျွန်မကို ကယ်မတော်မူပါ သခင်ဟု
၂၆ လျှောက် ပြန်လျှင်၊- ကိုယ်တော်က၊ သား၏အ
စာကိုယူ၍ ခွေးအား မပေးမချ အပ်ဟု ပြန်ပြော
၂၇ တော်မူ၏။- မိန်းမကလည်း၊ မှန်ပါ၏သခင်။ ခွေး
မည်သည်ကား၊ မိမိသခင်၏စားပွဲမှကျသောစား
နုပ်စားပေါက်ကိုစားမြဲထုံးစံရှိပါ၏ဟုလျှောက်
၂၈ ပြန်လျှင်၊- အိုမိန်းမ၊ သင်သည် ယုံကြည်ခြင်းကြီး
လှ၏။ သင့်အလိုရှိသည်အတိုင်းသင်၌ ဖြစ်စေဟု
မိန့်တော်မူ၏။ ထိုအချိန်မှစ၍ ထိုမိန်းမ၏ သမီးသည်
ကျန်းမာပကတိဖြစ်လေ၏။
၂၉ ယေရှုသည်ထိုအရပ်မှကြွ၍ ဂါလိလဲအိုင်နား
သို့ ရောက်တော်မူလျှင်၊ တောင်ပေါ်သို့ တက်၍
၃၀ ထိုင်တော် မူ၏။- မှားစွာသော လူ အပေါင်းတို့
သည်ခြေမစွမ်း၊ မျက်စိကန်း၊ စကားအ၊ အင်္ဂါ
ချို့တဲ့သောသူမှစ၍ အခြားသော အနာရောဂါစွဲ
သော သူများကို ဆောင်ခဲ့လျက်၊ အထံတော်သို့
၃၁ ရောက်လာ၍ခြေတော်ရင်း၌ချထားကြ၏။-အနာ
ရောဂါများကို ငြိမ်းစေတော် မူသဖြင့်၊ အသော
သူသည် စကားပြောသည်ကိုငင်၊ ချို့တဲ့သောသူ
သည် ပကတိ ဖြစ်သည်ကိုငင်၊ ခြေမ စွမ်းသော
သူသည် လှမ်း သွား သည် ကိုငင်၊ မျက်စိ ကန်း
သောသူသည်မြင်ရသည်ကိုငင်၊ လူအစုအဝေး
တို့သည်မြင်လျှင်အံ့ဩခြင်းသို့ရောက်၍၊ ဣ
သရေလအမျိုး၏ ဘုရားသခင်ဂုဏ်တော်ကိုချီး
မွမ်းကြ၏။
၃၂ ထိုအခါ ယေရှုသည် တပည့်တော်တို့ကိုခေါ်
၍၊ ဤလူများကိုငါသနား၏။ သုံးရက်ပတ်လုံးငါ
နှင့်အတူ ရှိကြပြီ။ စားစရာ အလျှင်းမရှိ။ လမ်း
ခရီး၌ မောမည်ကို စိုးရိမ်သောကြောင့် အစာမ
စားမိသူတို့ကို လွှတ်ခြင်းငှါ ငါအလိုမရှိဟု မိန့်
၃၃ တော်မူလျှင်၊-တပည့်တော်တို့က၊ဤမျှထောက်
များသော လူစုတို့သည် ဝစွာစားလောက်သော
အစာကို ဤတောအရပ်၌ အကျွန်ုပ်တို့သည် အ
ဘယ် သို့ ရ နိုင် ပါ မည် နည်း ဟု လျှောက် ကြ
၃၄ သော်၊- ယေရှုက၊ သင်တို့တွင်မုန့်ဘယ်နှစ်လုံးရှိ
သနည်းဟုမေးတော်မူလျှင်၊ မုန့်ခုနှစ်လုံးနှင့်အ
နည်းငယ်မျှသော ငါးကောင်ကလေးရှိပါသည်
၃၅ ဟုပြန်လျှောက်ကြ၏။- ထိုအခါ လူအစုအဝေး
တို့ကို မြေပေါ်မှာ လျောင်းကြစေဟု အမိန့်တော်
၃၆ ရှိ၏။- မုန့် ခုနှစ်လုံး နှင့် ငါး တို့ကို လည်း ယူ ၍
ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ၊ မုန့်နှင့်ငါးကိုဖဲ့၍
တပည့် တော် တို့အား ပေး တော် မူ ၏။ တပည့်
တော်တို့လည်းလူအပေါင်းတို့အားပေးကြ၏။-
၃၇ လူအပေါင်းတို့သည်စား၍ ဝကြပြီးမှ၊ ကြွင်းရစ်
သော အကျိုး အပဲ့ ကို ကောက် သိမ်း ၍ ခု နှစ်
၃၈ တောင်းအပြည့်ရကြ၏။- စားသောသူအရေအ
တွက်ကား၊ မိန်းမနှင့်သူငယ်ကိုမဆိုဘဲ၊ ယောက်ျား
၃၉ လေးထောင်ရှိသတည်း။- ထိုလူများတို့ကိုလွှတ်
တော်မူပြီးမှ၊ လှေစီး၍ မာဂဒါလ ကျေးလက်သို့
ရောက်တော်မူ၏။

၁၆

၁ ထိုအခါဖာရိရှဲနှင့်ဇဒ္ဒုကဲတို့သည်ကိုယ်တော်
ကိုစုံစမ်းနှောင့်ရှက်ခြင်းငှါ ချဉ်းကပ်၍၊ မိုဃ်း
ကောင်းကင်ကဖြစ်သော နိမိတ်လက္ခဏာကို ပြ
၂ တော်မူမည့်အကြောင်းတောင်းပန်ကြ၏။- ကိုယ်
တော်ကလည်း၊ သင်တို့သည်ညဦးယံ၌ပြောဆို
တတ်သည်ကား၊ ယခုမိုဃ်းတိမ် နီသည်ဖြစ်၍
၃ မိုဃ်းကြည်လင်လိမ့်မည်ဟု ဆိုတတ်ကြ၏။- နံ
နက်ယံ၌ကား၊ယနေ့မိုဃ်းအုံ့လျက်ရှိ၏။နီမောင်း
သောအဆင်းလည်းရှိ၏။ ယနေ့ မိုဃ်းသက်မုန်
တိုင်း လာလိမ့်မည်ဟု ဆိုတတ်ကြ၏။ လျှို့ဝှက်
သောသူတို့၊ သင်တို့သည် မိုဃ်းကောင်းကင်၏

ရှက်နှာကိုမိုင်းခြား၍သိနိုင်ကြ၏၊ ကပ်ကာလ
၏ နိမိတ် လက္ခဏာ တို့ကို ပိုင်းခြား၍ မသိနိုင်
၄ ကြ၊- ဆိုး ညစ်၍ ဖောက်ပြန်ထသော အမျိုး
သည် နိမိတ် လက္ခဏာ ကို တောင်း ထည့်မှာ၊
ပရောဖက် ယောနု၏ နိမိတ် လက္ခဏာမှ တပါး၊
အဘယ် လက္ခဏာကို မျှ သူ တို့အား မပြရာဟု
မိန့်တော်မူပြီးလျှင်၊ ထိုသူတို့ ရှိရာမှ ထွက်၍ ကြွ
တော်မူ၏၊
၅ တပည့် တော် တို့သည် ကမ်းတဘက် သို့ သွား
ကြသောအခါ မုန့်ကိုယူခြင်းငှါ မေ့လျော့ကြ၏၊-
၆ ယေရှုကလည်း၊ ဖာရိရှဲနှင့်ဇဒ္ဒုကဲတို့၏တဆေး
ကိုသတိနှင့် ကြည့်ရှောင် ကြဟုမိန့် တော်မူ၏၊-
၇ တပည့်တော်တို့က ထသ်၊ ငါတို့၌ မုန့်မပါသော
ကြောင့် ဤစကားကို မိန့်တော်မူသည်ဟုအချင်း
၈ ချင်းတွေး နွေး ပြောဆိုကြ၏၊- ယေရှုသည် သိ
တော်မူလျှင်၊ ယုံကြည် ခြင်းနည်း သော သူတို့၊
သင်တို့၌ မုန့်မပါသည်ကို ထောက်၍ အဘယ်
ကြောင့် အ ချင်းချင်း တွေး နွေး ပြော ဆို ကြသ
၉ နည်း၊- မုန့်ငါးလုံးကို လူငါးထောင်စား၍ စား
ကြွင်း တယ် နှစ်တောင်း ကောက်သိမ်းသည်ကို
၎င်း၊ မုန့်ခုနစ်လုံးကို လူလေးထောင်စား၍ စား
ကြွင်း အယ်နှစ်တောင်း ကောက်သိမ်းသည်ကို
၁၀ ၎င်း၊-သင်တို့သည်နှစ်လုံးမသွင်းမအောင်းမေ့သဲ
၁၁ နေကြသေးသလော၊- ဖာရိရှဲ နှင့် ဇဒ္ဒုကဲ တို့၏
တဆေးကိုကြည့်ရှောင်ကြဟုသောစကားကိုငါ
ပြောသည့်တွင်၊ မုန့်ကို အမှတ်ပြု၍ ငါမပြော
သည်ကိုသင်တို့သည် နားမလည်ဘဲ အဘယ်သို့
၁၂ နေကြသနည်းဟုမိန့်တော်မူ၏၊-ထိုအခါတပည့်
တော်တို့သည်မုန့်၏တဆေးကို ကြည့်ရှောင်ကြ
ဟုမိန့်တော်မမူ၊ဖာရိရှဲနှင့်ဇဒ္ဒုကဲတို့၏ဩဝါဒ
ကို ကြည့်ရှောင်ကြဟု မိန့်တော်မူသည်ကို နား
လည်ကြသတည်း၊
၁၃ ယေရှုသည်ဖိလိပ္ပုကဲသရိမြို့၏ကျေးလက်သို့
ကြွတော်မူသောအခါ၊ လူများတို့သည် လူသား
ဖြစ်သော ငါကို အဘယ်သူ ဖြစ် သည် ဆိုကြသ
နည်းဟု၊ တပည့် တော် တို့ ကို မေး မြန်း တော်မူ
၁၄ လျှင်၊- လူအချို့က၊ ကိုယ်တော်သည် နှစ်ခြင်း
ဆရာယောဟန်ဖြစ်သည်ဟူ၍၎င်း၊ အချို့က၊ ဧ
လိယဖြစ်သည်ဟူ၍၎င်း၊ အချို့က၊ယေရမိမှစ၍
ပရောဖက်တပါးပါး ဖြစ်သည်ဟူ၍၎င်း ဆိုကြပါ
၁၅ ၏ဟုလျှောက်ကြသော်၊- သင်တို့လည်း၊ ငါကိုအ
ဘယ်သူ ဖြစ်သည် ဆိုကြသနည်းဟု မေး မြန်း
၁၆ တော်မူလျှင်၊- ရှိမုန်ပေတရုက၊ ကိုယ်တော်သည်
ခရစ် တော်တည်း၊ ဟုသော အသက် ရှင်တော်မူ
သောဘုရားသခင်၏ သားတော်ဖြစ်တော်မူသည်ဟု
၁၇ ထုလျှောက်ထေ၏၊- ယေရှုကလည်း၊ ရှိမုန်ဗာ
ယောနာ၊ သင်သည် မင်္ဂလာရှိ၏၊ အကြောင်းမူ
ကား၊ အသွေးအသားသည်ဤအကြောင်းအရာ
ကိုသင့်အား ဖော်ပြသည်မဟုတ်၊ ကောင်းကင်
ဘုံ၌ ရှိတော်မူသောငါ့ခမည်းတော်သည် ဖော်ပြ
၁၈ တော်မူသတည်း၊- ငါဆိုသည်ကား၊ သင်သည်
ပေတရုဖြစ်၏၊ ဤကျောက်ပေါ်မှာ ငါ အသင်းကို
ငါတည်ဆောက်မည်၊ ထိုအသင်းကိုမရဏာနိုင်
၁၉ ငံ၏တံခါး တို့သည် မနိုင်ရာ၊- ကောင်းကင်နိုင်ငံ
တော်၏သော့တို့ကိုလည်းသင့်အားငါပေးမည်၊
သင်သည်မြေကြီးပေါ်မှာချည်နှောင်သမျှသည်
ကောင်းကင်ဘုံ၌ ချည်နှောင် လျက် ရှိလိမ့်မည်၊
မြေကြီး ပေါ်မှာ ဖြည်လွှတ်သမျှသည် ကောင်း
ကင်ဘုံ၌ဖြည်လွှတ်လျက်ရှိလိမ့်မည်ဟုမိန့်တော်
၂၀ မူပြီးလျှင်၊- ကိုယ်တော်သည် ခရစ် တော် ဖြစ်
ကြောင်းကို အဘယ်သူအားမျှ မပြောမိစေနှင့်ဟု
ငါတပည့်တော်တို့ကိုပညတ်တော်မူ၏၊
၂၁ ထိုမှတပါး ကိုယ်တော်သည် ယေရုရှလင်မြို့
သို့သွားရမည်၊ လူအကြီးအကဲ၊ ယဇ်ပုရောဟိတ်
အကြီး၊ ကျမ်းပြုဆရာတို့ထံ၌ များစွာခံရမည်၊
အသေသတ် ခြင်းကို ထည်း ခံရ မည်၊ သုံးရက်
မြောက်သောနေ့၌ ထမြောက်လိမ့်မည်ဟူသော
အကြောင်းများကို၊ ထိုအခါမှစ၍ တပည့်တော်
၂၂ တို့အား ပြတော်မူ၏၊- ထိုအခါ ပေတရု သည်
ကိုယ်တော်ကိုမိမိနှင့်အတူခေါ်၍၊ သခင်၊ ကိုယ်
တော်၌ဤသို့မဖြစ်ပါစေနှင့်၊ ဤအမှုသည်ကိုယ်
တော်၌ မရောက်ရာဟု၊ အပြစ်တင်သော စကား
၂၃ ကို လျှောက်သော်၊- ကိုယ်တော်သည် ရှက်နှာ
တော် ကို လှည့်၍၊ အချင်း ရန်သူ၊ ငါ့နောက် သို့
ဆုတ်လော့၊ သင်သည် ငါတိုက်မိ၍ လဲစရာ အ
ကြောင်းဖြစ်၏၊ သင်သည် ဘုရားသခင်၏ အရာ
ကို မိတ်မစွဲလမ်း၊ လူတို့၏အရာ ကိုသာ စွဲလမ်း
သည်ဟုမိန့်တော်မူ၏၊
၂၄ ထိုအခါယေရှုက၊ငါ၌ထည်းကပ်လိုသောသူ
ဖြစ်လျှင်၊ကိုယ်ကိုကိုယ်ငြင်းပယ်ရမည်၊ ကိုယ်
လက်ဝါးကပ်တိုင်ကိုထမ်း၍ငါ့နောက်သို့ လိုက်
၂၅ ရမည်၊- အကြင်သူသည် မိမိ အသက်ကို ကယ်
ဆယ်ခြင်းငှါအလိုရှိ၏၊ ထိုသူသည် အသက်ရှုံး
လိမ့်မည်၊ အကြင်သူသည်ငါ့ကြောင့်အသက်ရှုံး

၂၆ ၏၊ထိုသူသည်အသက်ကိုရှုံးလိမ့်မည်၊-လူသည်
ဤစကြဝဠာကိုအကြွင်းမဲ့အနိုင်ရ၍ မိမိအသက်
ပိညည်ရှုံးလျှင်၊အဘယ်ကျေးဇူးရှိသနည်း၊ မိမိ
အသက်ပိညည်ကို အဘယ်ဥစ္စာနှင့် ရွေးနိုင်သ
၂၇ နည်း။- လူသားသည် မိမိအဘ ခမည်းတော်၏
ဘုန်းအသရေတော်ကို ဆောင်လျက်၊ကောင်းကင်
တမန်အကြီအရံတို့နှင့် ကြွလာတော်မူလတံ့၊ ထို
အခါ သူအသီးသီး ကျင့်သော အကျင့်နှင့် အ
လျောက် အကျိုး အပြစ်ကို ဆပ်ပေးတော်မူ
၂၈ လတံ့၊- ငါအမှန် ဆိုသည်ကား၊ လူသားသည်
နိုင်ငံတော်တည်လျက် ကြွလာတော်မူသည်ကို၊
ဤအရပ်၌ ရှိသောသူအချို့ ထိုသည် မမြင်မှီ သေ
ခြင်းသို့ မရောက်ရကြဟု၊ တပည့်တော်တို့အား
မိန့်တော်မူ၏၊

၁၇

၁ ခြောက်ရက် လွန် သောအခါ ယေရှုသည် ပေ
တရု၊ယာကုပ်၊ယာကုပ်ညီယောဟန်တို့ကိုခေါ်
၍၊ မြင့်မြတ်သော တောင်ပေါ်တွင် ဆိတ်ကွယ်
၂ ရာအရပ်သို့ ဆောင်ကြွတော်မူ၏၊- သူတို့ရှေ့၌
ထူးခြားသောအဆင်းအရောင်နှင့် ပြည့်စုံသည်
ဖြစ်၍၊ မျက်နှာတော်သည် နေကဲ့သို့ ထွန်း
တောက်လျက်၊အဝတ်တော်သည်အလင်းကဲ့သို့
၃ ဖြူလျက်ရှိ၏၊- မောရှေနှင့်ဧလိယသည်ထင်ရှား
၍ကိုယ်တော်နှင့်အတူစကားပြောလျက် နေကြ
၄ ၏၊- ထိုအခါပေတရုက၊ သခင်၊ ဤအရပ်၌ နေ
ရှယ်ကောင်းပါ၏၊ ကိုယ်တော်အိုဖို့တဆောင်၊
မောရှေအိုဖို့တဆောင်၊ ဧလိယအိုဖို့တဆောင်၊ ထဲ
သုံးဆောင်ကို အလိုတော်ရှိလျှင်၊ အကျွန်ုပ်တို့
သည် ဆောက်လုပ်ပါမည်ဟု လျှောက်လေ၏၊-
၅ ထိုသို့လျှောက်စဉ်တွင်၊ထွန်းလင်းသောမိုဃ်း
တိမ်သည်ထိုသူတို့ကိုလွှမ်းမိုး၍၊ ဤသူသည်ငါ
နှစ်သက်မြတ်နိုးရာ၊ ငါ၏ချစ်သားပေတည်း၊ သူ
၏စကားကို နားထောင်ကြလော့ဟု၊ မိုဃ်းတိမ်
၆ ကအသံတော်ဖြစ်လေ၏၊-တပည့်တော်တို့သည်
ကြား၍ လျှင်၊ ပြပ်ဝပ်၍ အလွန် ကြောက် လန့်
၇ ခြင်းရှိကြ၏၊- ယေရှုသည်လာ၍သူတို့ကိုလက်
နှင့်တို့တော်မူလျက်၊ထကြ၊ မကြောက်ကြနှင့်ဟု
၈ မိန့်တော်မူသော်၊-သူတို့သည်ကြည့်မျှော်သဖြင့်၊
ယေရှု တယောက်တည်းမှတပါး အဘယ်သူကို
မျှမမြင်ကြ၊
၉ တောင်ပေါ်မှဆင်းကြသောအခါယေရှုက၊လူ
သားသည်သေခြင်းမှမထမြောက်မှီတိုင်အောင်၊
သင်တို့ထုမြင်သောရူပါရုံကိုအဘယ်သူအား
မျှမပြောကြနှင့်ဟု၊ တပည့်တော်တို့ကို ပညတ်
၁၀ တော်မူ၏၊- ထိုအခါတပည့်တော်တို့က၊ဧလိယ
သည်အရင်လာရမည်ဟု၊ကျမ်းပြုဆရာတို့သည်
အဘယ်ကြောင့် ဆိုပါသနည်းဟု မေးလျှောက်
၁၁ ကြလျှင်၊- ယေရှုက၊ ဧလိယသည်အရင်လာ၍
၁၂ အလုံးစုံတို့ကို ပြုပြင် ရသည် မှန်ပေ၏၊- ငါဆို
သည်ကား၊ ဧလိယရောက်လာပြီ၊ လူများသည်
သူကိုမသိသဖြင့် သူအားပြုချင်သမျှကိုပြုကြပြီ၊
ထိုနည်းတူ၊လူသားသည်လည်း ထိုလူများလက်
၁၃ ၌ ခံရမည်ဟု မိန့်တော်မူသော်၊- နှစ်ခြင်းဆရာ
ယောဟန်ကိုအမှတ်ပြု၍မိန့်တော်မူကြောင်းကို
တပည့်တော်တို့သည်နားလည်ကြ၏၊
၁၄ လူအစုအဝေးရှိရာသို့ ရောက်ကြသောအခါ၊
လူတယောက်သည် အထံတော်သို့ ချဉ်းကပ်၍
၁၅ ဒူးထောက်လျက်၊ သခင်၊- အကျွန်ုပ် ၏ သားကို
ကယ်မသနားတော်မူပါ၊ဝက်ရူးနာစွဲ၍ပြင်းစွာ
ခံရပါ၏၊ မီး၌ငုင်၊ရေ၌ငုင်၊အကြိမ်ကြိမ်ထဲတတ်
၁၆ ပါ၏၊- တပည့်တော်တို့ထံသို့ ဆောင်ခဲ့၍ သူတို့
သည်ချမ်းသာမပေးနိုင်ကြပါဟုလျှောက်လျှင်၊-
၁၇ ယေရှုက၊ယုံကြည်ခြင်းမရှိ၊ဖောက်ပြန်သောအ
မျိုး၊ ငါသည်သင်တို့နှင့်တကွ အဘယ်မျှကာလ
ပတ်လုံး နေရမည်နည်း၊ သင်တို့ကို အဘယ်မျှ
ကာလပတ်လုံး သည်းခံရမည်နည်း၊ သူငယ်ကို
၁၈ ငါထံသို့ ယူခဲ့ကြဟုမိန့်တော်မူ၏၊- ယေရှုသည်
သူကိုဆုံးမတော်မူလျှင်၊နတ်ဆိုးသည် သူမှထွက်
သွားသဖြင့်၊ထိုခဏမှစ၍သူငယ်သည်ကျန်းမာ
ပကတိဖြစ်လေ၏၊
၁၉ ထို အခါ တပည့် တော်တို့ သည် ဆိတ်ကွယ်
ရာအရပ်၌ ယေရှုထံတော်သို့ ချဉ်းကပ်၍၊ အ
ကျွန်ုပ်တို့သည် ထိုနတ်ဆိုးကို အဘယ်ကြောင့်မ
နှင်ထုတ် နိုင်ပါသနည်းဟု လျှောက် ကြသော်၊-
၂၀ သင်တို့သည် ယုံကြည် ခြင်း မရှိ သောကြောင့် မ
နှင်ထုတ် နိုင်ကြ၊ငါအမှန်ဆိုသည်ကား၊သင်တို့
သည် မုန်ညင်းစေ့ခန့်မျှလောက်သော ယုံကြည်
ခြင်းရှိလျှင်၊ထိုတောင်ကိုနေရာမှရွေ့လော့ဟု ဆို
ကြသော်၊ နေရာမှရွေ့လိမ့်မည်၊ ယုံကြည်ခြင်းရှိ
၂၁ လျှင်သင်တို့မတတ်နိုင်သောအမှုမရှိ၊-သို့သော်
သည်း ဆုတောင်း ခြင်း၊ အစာရှောင်ခြင်းမှတ
ပါး၊အဘယ်သို့သောအားဖြင့်၊ ထိုအမျိုးသည်မ
ထွက်တတ်ဟုမိန့်တော်မူ၏၊
၂၂ ဂါလိလဲပြည်၌ နေကြစဉ်တွင် ယေရှုက၊ လူ

သားကို လူတို့ လက်သို့ အပ်နှံရသောအချိန် နီး
၂၃ ပြီ။– သူတို့သည် သတ်ကြ လိမ့် မည်။ သုံး ရက်
မြောက် သော နေ့၌ ထမြောက် လိမ့်မည်ဟု၊ တ
ပည့် တော်တို့အား မိန့် တော်မူ၏။ သူတို့သည်
လည်း အလွန်ဝမ်းနည်းခြင်းရှိကြ၏။
၂၄ ကပေရနောင်မြို့သို့ရောက်သောအခါ၊ဗိတ်မှန်
တော်အခွန်တည်းဟူသော ဒိဒြမ္မကို ခံသောသူ
တို့သည်ပေတရုဆီသို့လာ၍၊ သင်၏ဆရာသည်
ဒိဒြမ္မကို မပေးသလောဟုမေးမြန်းလျှင်၊ ပေးပါ
၂၅ သည်ဟုပေတရုဆို၏။–ပေတရုသည်အိမ်သို့ဝင်
သောအခါ၊ယေရှုသည်တင်ကူး၍၊အချင်းရှိမုန်၊
သင်သည် အဘယ်သို့ထင်သနည်း။ လောကီရှင်
ဘုရင်တို့သည် အဘယ်သူမှာ အခွန်ကို ခံကြသ
နည်း။ မိမိသားမှာခံကြသလော၊ သူတပါးမှာခံ
၂၆ ကြသလောဟုမေးတော်မူလျှင်၊–ပေတရုက၊သူ
တပါးမှာခံကြပါသည်ဟုလျှောက်သော်၊ယေရှု
ကလည်း၊သို့ဖြစ်လျှင်၊သားမူကားလွတ်ရ၏။ သို့
သော်လည်း၊ ထိုသူတို့သည် ငါတို့ကြောင့် မမှား
ယွင်းမည် အကြောင်း၊ အိုင်သို့သွား၍ ငါးမျှား
၂၇ ကိုချလော့။– ရှေ့ဦးစွာရသော ငါးကိုယူ၍ ပစပ်
ကိုဖွင့်လျှင်၊ သတာထဲတပြားကို တွေ့လိမ့်မည်။
ထိုငွေကိုယူ၍ ငါ့အဖို့နှင့် သင့်အဖို့ ထိုသူတို့အား
ပေးလော့ဟုမိန့်တော်မူ၏။

၁၈

၁ ထိုအခါ တပည့် တော်တို့သည် ချည်းကပ်၍၊
ကောင်းကင်နိုင်ငံတော်၌အဘယ်သူသည်သာ၍
ကြီးမြတ်ပါအံ့နည်းဟု မေးလျှောက်ကြသော်၊–
၂ သူငယ် တ ယောက် ကို ခေါ်တော်မူ၍၊ တပည့်
၃ တော်တို့အလယ်၌ထားပြီးမှ၊–ငါအမှန်ဆိုသည်
ကား၊ သင်တို့သည်ပြောင်းလဲ၍ သူငယ်ကဲ့သို့မ
ဖြစ်လျှင်၊ ကောင်းကင် နိုင်ငံတော်သို့ မရောက်ရ
၄ ကြ။– ထိုကြောင့်၊ အကြင်သူသည် ဤသူငယ်ကဲ့
သို့ မိမိကို မိမိနှိမ့်ချအံ့၊ ထိုသူသည်ကောင်းကင်
၅ နိုင်ငံတော်၌သာ၍ကြီးမြတ်လိမ့်မည်။– အကြင်
သူသည်ငါ့ကျက်နှာကိုထောက်၍၊ ဤကဲ့သို့သော
သူငယ်တစုံတယောက်ကိုလက်ခံ၏၊ ထိုသူသည်
၆ ငါ့ကိုပင်လက်ခံ၏။–ငါ့ကိုယုံကြည်သောဤသူငယ်
တစုံတယောက်ကိုအကြင်သူသည်မှားယွင်းစေ
၏၊ ထိုသူသည်ထည်ပင်း၌ ကြိတ်ဆုံကျောက်ကို
ဆွဲ၍ နက်နဲသောပင်လယ်၌ နှစ်မြှုပ်ခြင်းကိုခံရ
လျှင်အနေသာ၍ကောင်း၏။
၇ မှားယွင်းစရာအကြောင်းများရှိသောကြောင့်

လောကီ သား တို့သည် အမင်္ဂလာ ရှိကြ၏။ မှား
ယွင်းစရာ အကြောင်းရှိရမည်။ သို့သော်လည်း၊
မှား ယွင်း စရာ အ ကြောင်း ကို ဖြစ် စေ သော သူ
၈ သည် အမင်္ဂလာရှိ၏။– သင်၏ လက် ခြေသည်
သင့်ကိုမှားယွင်းစေလျှင်၊ လက်ခြေကို ဖြတ်ဖြစ်
လော့။ လက်ခြေအစုံနှင့် ထာဝရမီးထဲသို့ချခြင်း
ကို ခံရ သည်ထက်၊ အင်္ဂါချို့တဲ့၍ အသက်ရှင်
၉ ခြင်းသို့ဝင်စားသော်သာ၍ကောင်း၏။– သင်၏
မျက်မိ သည်လည်း၊ သင့်ကို မှားယွင်းစေလျှင်၊
မျက်မိကို ထုတ်ပြစ်လော့။ မျက်မိ နှစ်ဖက်စုံနှင့်
ငရဲမီးထဲသို့ ချခြင်းကိုခံရသည်ထက်၊ မျက်မိတ
ဖက် နှင့် အသက်ရှင်ခြင်းသို့ ဝင်စားသော်သာ၍
ကောင်း၏။
၁၀ သင်တို့သည် ဤသူငယ် တစုံတယောက် ကိုမ
ထီမဲ့မြင် မပြုမည်အကြောင်း သတိ ရှိကြလော့။
ငါဆိုသည်ကား၊ သူတို့၏ကောင်းကင်တမန်တို့
သည် ကောင်းကင်ဘုံ၌ ရှိတော်မူသော ငါ့အဘ၏
၁၁ မျက်နှာတော်ကိုအစဉ်မပြတ်ဖူးမြင်ကြ၏။– ထို
မှတပါး၊ လူသားသည် ပျောက် သော သူ တို့ ကို
၁၂ ကယ်တင် အံ့ သောငှါ ကြွ လာ သ တည်း။– အ
ဘယ်သို့ ထင်ကြသနည်း။ သိုးတရာရှိသောသူ၌
သိုးတကောင်သည် လမ်းလွဲ၍ ပျောက်လျှင်၊ထို
သူသည် ကိုးဆယ် ကိုး ကောင် သော သိုး တို့ကို
တောင်ပေါ်မှာ ထားခဲ့ပြီးမှ၊ လမ်းလွဲ၍ ပျောက်
သောသိုးတကောင်ကို သွား၍ ရှာတတ်သည်မ
၁၃ ဟုတ်လော။– တွေ့ပြီးလျှင်၊လမ်းမလွဲ မပျောက်
သော သိုးကိုးဆယ် ကိုး ကောင် ၌ ဝမ်းမြောက်
ခြင်းရှိသည်ထက်၊ ထိုသိုးတကောင်၌သာ၍ဝမ်း
၁၄ မြောက်ခြင်းရှိသည်ဟုငါအမှန်ဆို၏။–ထိုနည်း
တူ၊ ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဘ
သည်၊ဤသူငယ်တယောက်ကိုမျှပျက်စီးစေခြင်း
ငှါအလိုတော်မရှိ။
၁၅ ထိုကြောင့်၊သင်၏ညီအစ်ကိုသည်သင့်ကိုပြစ်
မှားလျှင်၊ သူဆီသို့ သွား၍ နှစ်ယောက် တည်း
ချင်းသူ၏အပြစ်ကိုပြ၍ဆုံးမလော့။ သူသည်သင်
၏စကားကိုနားထောင်လျှင်ညီအစ်ကိုကိုရပြီ။–
၁၆ သို့မဟုတ်၊ သင်၏ စကားကို နား မထောင်လျှင်၊
လူနှစ်ဦး သုံးဦး သက်သေခံ၍ စကားရှိသမျှတို့
ကိုတည်စေခြင်းငှါ၊ ကိုယ်နှင့်အတူ လူတဦးနှစ်
၁၇ ဦးကိုခေါ်ဦးလော့။– ထိုသူတို့၏စကားကို နားမ
ထောင် လျှင်၊ အသင်း တော် အား ကြား ပြော
လော့။ အသင်း တော်၏ စကားကို နား မထောင်

လျှင်၊ သာသနာပလူကဲ့သို့၎င်း၊ အခွန်ခံကဲ့သို့၎င်း၊
၁၈ ထိုသူကို မှတ်လော့၊- ငါအမှန်ဆိုသည်ကား၊ မြေ
ကြီးပေါ်မှာ သင်တို့ချည်နှောင်သမျှသည်ကောင်း
ကင်ဘုံ၌ ချည်နှောင်လျက် ရှိလိမ့်မည်၊ မြေကြီး
ပေါ်မှာ ဖြည်လွှတ်သမျှသည် ကောင်းကင်ဘုံ၌
၁၉ ဖြည်လွှတ်လျက်ရှိလိမ့်မည်၊- တဖန်ငါဆိုသည်
ကား၊ မြေကြီးပေါ်မှာ သင်တို့တွင်နှစ်ယောက်တို့
သဘောတူ၍ ဆုတောင်းလျှင်၊ တောင်း
သမျှသော ဆုတို့ကို ကောင်းကင်ဘုံ၌ ရှိတော်မူ
သော ငါ၏ခမည်းတော်သည် ပေးတော်မူလတံ့၊-
၂၀ အကြောင်းမူကား၊ အကြင်အရပ်၌ လူနှစ်ဦးသုံး
ဦးတို့သည် ငါ၏နာမကိုထောက်၍ စည်းဝေးကြ
၏၊ ထိုအရပ်၌ သူတို့အလယ်မှာ ငါရှိသည်ဟု မိန့်
တော်မူ၏၊
၂၁ ထိုအခါ ပေတရုသည် ချဉ်းကပ်၍၊ သခင်၊
ညီအစ်ကိုသည် အကျွန်ုပ်ကိုပြစ်မှား၍ အကျွန်ုပ်
သည် သူ၏အပြစ်ကို ဘယ်နှစ်ကြိမ်လွှတ်ရပါမည်
နည်း၊ ခုနစ်ကြိမ်မြောက်အောင် လွှတ်ရပါမည်
လောဟု မေးလျှောက်သော်၊ ယေရှုက၊ ခုနစ်ကြိမ်
၂၂ မြောက်အောင် လွှတ်ရမည် ငါမဆို၊- အကြိမ်
ခုနစ်ဆယ် ခုနစ်လီ မြောက်အောင် လွှတ်ရမည်
၂၃ ငါဆို၏၊- ထိုကြောင့်၊ ကောင်းကင်နိုင်ငံတော်
သည်၊ မိမိကျွန်များတို့ကို စာရင်းယူခြင်းငှါ အလို
၂၄ ရှိသော မင်းကြီးတဦးနှင့်တူ၏၊- စာရင်းယူစည်
တွင်၊ ငွေအခွက်တသိန်း ကြွေးတင်သော လူတ
၂၅ ယောက်ကို ရှေ့တော်သို့ဆောင်ခဲ့ကြ၏၊- ထိုသူ
သည် ကြွေးဆပ်ရန် မရှိသောကြောင့်၊ ကိုယ်မှစ
၍ သားမယား ဥစ္စာရှိသမျှတို့ကိုရောင်း၍ ကြွေး
၂၆ ကိုဆပ်စေဟု၊ သူ၏သခင်စီရင်၏၊- ထိုကျွန်သည်
ညွတ်ပြပ်ဝပ်တွား လျက်၊ သခင်၊ ကျွန်တော်ကို
သည်းခံတော်မူပါ၊ ကြွေးရှိသမျှကို ဆပ်ပါမည်
၂၇ ဟုလျှောက်လျှင်၊- လူ၏သခင်သည်သနားခြင်း
ရှိသဖြင့်၊ ကြွေးရှိသမျှကို လွှတ်၍ချမ်းသာပေး
လေ၏၊
၂၈ ထိုကျွန်သည် ထွက်သွားရာတွင် မိမိငွေဒေနာ
ရီတရာ ကြွေးတင်သော ကျွန်ချင်းတယောက်ကို
တွေ့လျှင်၊ လည်ပင်းကိုကိုင်ညှစ်၍၊ ငွေကိုဆပ်
၂၉ ပေးလော့ဟုဆို၏၊- ထိုကျွန်ချင်းသည်ကြွေးရှင်
၏ခြေရင်း၌ပြပ်ဝပ်လျက်၊ ကျွန်တော်ကို သည်း
ခံတော်မူပါ၊ ကြွေးရှိသမျှ ကို ဆပ်ပါမည်ဟု
၃၀ တောင်းပန်သော်လည်း၊- ငွေရှင်သည် နားမ
ထောင်ဘဲသွား၍၊ ကြွေးကိုမဆပ်မှီတိုင်အောင်

၃၁ သူကိုထောင်ထဲမှာလှောင်ထား၏၊- ထိုအမှုအ
ရာကိုအခြားသောကျွန်ချင်းတို့သည်မြင်လျှင်၊ အ
လွန်နာကြည်းသောစိတ်နှင့်သွား၍ ဖြစ်သမျှတို့
၃၂ ကို မိမိတို့သခင်အားကြားလျှောက်ကြ၏၊- ထိုအခါ
သခင်သည်ထိုကျွန်ကိုခေါ်၍၊ အယုတ်၊ ဆိုးညစ်
သောကျွန်၊ သင်သည်ငါ့ကို တောင်းပန်သော
ကြောင့် သင်၌တင်သမျှသောကြွေးကို ငါရှင်း
၃၃ လင်းစေ၏၊- ငါသည်သင့်ကိုသနားသကဲ့သို့သင်
သည်လည်း ကျွန်ချင်းကို မသနားအပ်သလော
၃၄ ဟုဆိုလျက်၊- အမျက်ထွက်၍၊ ကြွေးရှိသမျှကိုမ
ဆပ်မှီတိုင်အောင် အာဏာသားတို့ အထံကို
၃၅ အပ်လေ၏၊- သင်တို့သည်လည်း ညီအစ်ကို အ
ချင်းချင်းတို့ကို စိတ်နှစ်လုံးပါလျက် အပြစ်မ
လွှတ်လျှင်၊ ကောင်းကင်ဘုံ၌ရှိတော်မူသော ငါ၏
အဖသည် ထိုနည်းတူ သင်တို့ကို စီရင်တော်မူ
လတံ့ဟု မိန့်တော်မူ၏၊

၁၉

၁ ထိုဒေသနာတော်ကိုယေရှုသည်အကုန်အစင်
ဟောတော်မူပြီးလျှင်၊ ဂါလိလဲပြည်မှခွာခြင်း၍
ယုဒပြည်စွန်း၊ ယော်ဒန်မြစ်တဘက်သို့ ကြွတော်
၂ မူ၏၊- လူများအပေါင်းတို့အစည်းအဝေးတော်သို့
လိုက်ကြသည် ဖြစ်၍၊ ထိုအရပ်၌ အနာရောဂါ
၃ စွဲကိုငြိမ်းစေတော်မူ၏၊ ဖာရိရှဲတို့သည်အထံ
တော်သို့လာ၍၊ လူသည်ခပ်သိမ်းသောအပြစ်
ကြောင့် မိမိမယားနှင့်ကွာအပ်သလောဟုစုံစမ်း
၄ နှောင့်ရှက်ခြင်းငှါမေးလျှောက်ကြသော်၊- ကိုယ်
တော်က၊ အစအဦး၌ ဖန်ဆင်းတော်မူသော သူ
သည် ယောက်ျားနှင့် မိန်းမ နှစ်ယောက်တည်းကို
၅ ဖန်ဆင်းတော်မူ၏၊- ထိုအကြောင်းကြောင့်၊
ယောက်ျားသည် ကိုယ်မိဘကို စွန့်၍ ကိုယ်ခင်
ပွန်း၌မှီဝဲသဖြင့်၊ ထိုသူနှစ်ယောက်တို့သည် တ
သားတကိုယ်တည်းဖြစ်ရလိမ့်မည်ဟု ကျမ်းဆို
၆ သည်ကိုသင်တို့မဖတ်ဘူးသလော၊- ထိုကြောင့်၊
သင်မယားတို့သည် နှစ်ဦးမဟုတ်၊ တဦးတည်း
ဖြစ်၏၊ ဘုရားသခင် စပ်၍ ထမ်းတိုးတင်
တော်မူသောအရာကို လူမခွဲမခွာစေနှင့်ဟု မိန့်
၇ တော်မူ၏၊- ဖာရိရှဲတို့ကလည်း၊ ထိုသို့မှန်လျှင်
ဖြတ်စာကိုပေး၍ မယားနှင့် ကွာစေခြင်းငှါ၊
မောရှေသည် အဘယ်ကြောင့် စီရင်သနည်းဟု
၈ လျှောက်ကြသော်၊- ကိုယ်တော်က၊ သင်တို့စိတ်
နှလုံးမိုက်မာသောကြောင့် မယားနှင့် ကွာရ
သောအခွင့်ကိုမောရှေသည်စီရင်၏၊ အစအဦး၌

၉ ထိုသို့မဟုတ်၊- ငါပညတ်သည်ကား၊ မှားယွင်း
ခြင်းအကြောင်းမှတပါးအခြားသောအကြောင်း
ဖြင့်၊ မိမိမယားနှင့်ကွာ၍ အခြားသောမိန်းမနှင့် စုံ
ဖက်သောသူသည်မိမိမယားကိုပြစ်မှား၏။ ကွာ
သောမိန်းမနှင့်စုံဖက်သောသူသည်လည်းသူ့မယား
ကိုပြစ်မှားသည်ဟုမိန့်တော်မူ၏။
၁၀ တပည့်တော်တို့ကလည်း၊ လင်မယား အမှု
သည် ဤသို့ဖြစ်လျှင်စုံဖက်ခြင်းကို မပြုကောင်း
၁၁ ပါဟုလျှောက်ကြ၏။- ကိုယ်တော်ကလည်း၊ထို
စကားကိုလူတိုင်းမခံမယူနိုင်။ အခွင့်ရသောသူ
၁၂ တို့သာ ခံယူနိုင်ကြ၏။- လူအချို့တို့သည် အမိ
ဝမ်းတွင်းကပင်မိန်းမလျှာဖြစ်ကြ၏။ အချို့တို့သည်
သူတပါးဆူပွ၍မိန်းမလျှာဖြစ်ကြ၏။အချို့တို့သည်
ကောင်းကင်နိုင်ငံတော်အဖို့အလိုငှါမိမိကိုယ်ကို
ဆူပွ၍ မိန်းမလျှာဖြစ်ကြ၏။ ထိုစကားကို ခံယူနိုင်
သောသူသည်ခံယူစေဟုမိန့်တော်မူ၏။
၁၃ ထိုအခါ သူငယ်တို့ အပေါ်မှာ လက် တော်ကို
တင်၍မေတ္တာသို့တော်မူစေခြင်းငှါအထံတော်သို့
ဆောင်ခဲ့သည်ဖြစ်၍၊ တပည့်တော်တို့သည် အ
၁၄ ပြစ်တင်ကြ၏။- ယေရှုကလည်း၊ ထိုသူငယ်တို့
ကိုရှိစေတော့။ ငါထံသို့ လာသည်ကို မဆီးတား
ကြနှင့်။ကောင်းကင်နိုင်ငံတော်သည်ထိုသို့သော
၁၅ သူတို့၏နိုင်ငံဖြစ်သည်ဟုမိန့်တော်မူ၍၊- သူငယ်
တို့အပေါ်မှာ လက်တော်ကိုတင်ပြီးလျှင်၊ ထိုအ
ရပ်မှကြွသွားတော်မူ၏။
၁၆ ထိုနောက်၊ လူတယောက်သည် ချဉ်းကပ်၍၊
ကောင်းမြတ်သောဆရာ၊ ထာဝရအသက်ကို ရ
အံ့သောငှါ အကျွန်ုပ်သည်အဘယ်ကောင်းမှုကို
၁၇ ပြုရပါမည်နည်းဟု မေးလျှောက် သော်၊- ငါ့ကို
ကောင်းမြတ်သည်ဟု အဘယ် ကြောင့် ခေါ်သ
နည်း။ ဘုရားသခင် တပါးတည်းသာ ကောင်း
မြတ်တော် မူ၏။ အသက် ရှင်ခြင်းသို့ ဝင် စား
လိုလျှင်၊ ပညတ်တော်တို့ကို စောင့်ရှောက်လော့
၁၈ ဟုမိန့်တော်မူ၏။- အဘယ်ပညတ် တို့ကိုစောင့်
ရှောက်ရမည်နည်းဟုလျှောက်ပြန်သော်၊ လူအ
သက်ကိုမသတ်နှင့်။သူ့မယားကိုမပြစ်မှားနှင့်။
သူ့ဥစ္စာကိုမခိုးနှင့်။ မမှန်သော သက်သေကိုမခံ
၁၉ နှင့်။- မိဘကိုရိုသေစွာ ပြုလော့။ ကိုယ်နှင့် စပ်
ဆိုင်သောသူကို ကိုယ်နှင့်အမျှ ချစ်လော့ဟု မိန့်
၂၀ တော်မူ၏။- ထိုလုလင်ကလည်း၊ထိုပညတ်ရှိသ
မျှတို့ကို အကျွန်ုပ်သည် ငယ်သော အရွယ်မှစ၍
စောင့်ရှောက်ပါပြီ။ အဘယ် အကျင့်လိုသေးသ
၂၁ နည်းဟုလျှောက်ပြန်ထေ၏။- ယေရှုကလည်း၊
သင်သည် စုံလင် ခြင်းသို့ ရောက် လိုလျှင် သွား
လော့။ ကိုယ်ဥစ္စာများကိုရောင်း၍ဆင်းရဲသော
သူတို့အားပေးလော့။ထိုသို့ပြုလျှင်၊ကောင်းကင်
ဘုံ၌ဘဏ္ဍာကိုရလိမ့်မည်။ သို့ပြီးမှငါ့နောက်သို့
၂၂ လိုက်လော့ဟု မိန့်တော်မူ၏။- ထိုလုလင် သည်
များစွာသောဥစ္စာကို ရတတ်သောသူဖြစ်၍၊ ထို
စကားကို ကြားလျှင် စိတ်မသာသည်နှင့် သွား
လေ၏။
၂၃ ယေရှုကလည်း၊ငါအမှန်ဆိုသည်ကား၊ငွေရ
တတ်သော သူသည် ကောင်းကင် နိုင်ငံ တော်သို့
၂၄ ဝင်ခဲလှ၏။- တဖန် ငါ ဆိုသည် ကား၊ ကုလား
အုတ်သည်အပ်နဖားကိုလျှိုလွယ်၏။ ငွေရတတ်
သောသူသည်ဘုရားသခင်၏ နိုင်ငံတော်သို့ဝင်ခဲ
သည်ဟု တပည့် တော်တို့အား မိန့် တော်မူ၏။-
၂၅ ထိုသူတို့သည် ကြားလျှင် အလွန် မိန်းမောတွေ
ဝေခြင်းရှိ၍၊ သို့ဖြစ်လျှင်၊အဘယ်သူသည်ကယ်
တင်တော်မူခြင်းသို့ရောက် နိုင်မည်နည်းဟုပြော
၂၆ ဆိုကြ၏။-ယေရှုသည်လည်း၊ သူတို့ကိုကြည့်ရှု
၍၊ ဤအမှု ကို လူမ တတ် နိုင်။ သို့ သော် လည်း၊
ဘုရား သခင် သည် ခပ် သိမ်း သော အ မှု တို့ ကို
တတ်နိုင်တော်မူသည်ဟုမိန့်တော်မူ၏။
၂၇ ထိုအခါ ပေတရုက၊ အကျွန်ုပ်တို့သည် ရှိသ
မျှကို စွန့်ပစ်၍ ကိုယ်တော်နောက်သို့ လိုက်ကြ
ပါပြီ။ အဘယ်အကျိုးကိုရကြပါမည်နည်း ဟု
၂၈ လျှောက်လေသော်၊-ယေရှုက၊ငါအမှန်ဆိုသည်
ကား၊ အလုံးစုံ သော အရာတို့ကို အသစ် ပြုပြင်
သောကာလ၌၊လူသားသည်ဘုန်းရှိသောပလ္လင်
တော်ပေါ်မှာထိုင်တော်မူသောအခါ၊ငါ့နောက်သို့
လိုက်ကြသော သင်တို့သည် တဆယ်နှစ်ခုသော
ပလ္လင်ပေါ်မှာထိုင်လျက်၊ ဣသရေလလူတဆယ်
၂၉ နှစ်မျိုးကိုစစ်ကြောစီရင်ရကြလတ့ံ။- အကြင်သူ
သည်ငါ၏နာမကြောင့်၊ အိမ်၊ထယ်၊ညီအစ်ကို၊
နှမ၊ မိဘ၊ သားမယားတည်းဟူသော တပါး
ပါးကိုစွန့်၏၊ ထိုသူသည်အဆတရာသောအကျိုး
ကိုရ၍ ထာဝရ အသက် ကို အမွေ ခံ ရ လတ့ံ။-
၃၀ နောက်ကျသောသူအများတို့သည် အရင်ကျကြ
လိမ့်မည်။ အရင် ကျသော သူ အများ တို့ သည်
နောက်ကျကြလိမ့်မည်။

၂၀

၁ ဥပမာကား၊ ကောင်းကင်နိုင်ငံတော်သည်စပျစ်
ဥယျာဉ်ကို လုပ်ဆောင် သော သူတို့ကို ငှါးခြင်း

ငှါ နံနက်စောစော ထွက်သွားသော အိမ်ရှင်နှင့်
တူ၏၊– ထိုသူသည်တနေ့ လျှင် ဒေနာရိတပြားစီ
ပေးမည်ဟူ၍၊လုပ်ဆောင်သောသူတို့နှင့် ဝန်ခံ
၃ ပြီး၍၊စပျစ်ဥယျာဉ်သို့ စေလွှတ်လေ၏၊– နံနက်တ
ချက်တီးအချိန်၌ထွက်ပြန်လျှင်၊ အခြားသောသူ
တို့သည်အလုပ်ကိုမလုပ်၊ ဈေး၌ ရပ်နေသည်ကို
၄ မြင်၍၊–သင်တို့သည်းစပျစ်ဥယျာဉ်သို့သွားကြ၊
တော်လျော်စွာ ငါပေးမည်ဟုဆိုလျှင်၊ ထိုသူတို့
၅ သည်သွားကြ၏၊– တဖန်နှစ်ချက်တီးအချိန်၊ တ
ခန့်သုံးချက်တီးအချိန်၌ ထွက်၍ ထိုနည်းအတူ
၆ ပြုလေ၏၊–ဆယ်တနာရီအချိန်၌လည်းထွက်ပြန်
လျှင်၊အခြားသောသူတို့သည် အလုပ်ကိုမလုပ်၊
ရပ်နေသည်ကိုတွေ့၍၊သင်တို့သည်တနေ့လုံးအ
လုပ်ကိုမလုပ်ဘဲ ဤအရပ်၌ အဘယ်ကြောင့်နေ
၇ ကြသနည်းဟုမေးသော်၊–ထိုသူတို့က၊ကျွန်တော်
တို့ကိုအဘယ်သူမျှမငှါးဟုပြောဆိုကြလျှင်၊
သင်တို့သည်း စပျစ်ဥယျာဉ်သို့သွားကြ၊ တော်
လျော်စွာရကြလိမ့်မည်ဟု ဆိုလေ၏၊
၈ ညအချိန် ရောက်သောအခါ စပျစ်ဥယျာဉ်ရှင်
က၊ လုပ်ဆောင် သော သူ တို့ ကို ခေါ်ခဲ့လော့၊
နောက်ဝင်သော သူမှစ၍ အရင် အဦးဝင် သော
သူတိုင်အောင် အခကို ပေးလော့ဟု၊ မိမိစာရေး
၉ ကိုမှာလိုက်လေ၏၊–ထိုကြောင့်၊ဆယ်တနာရီအ
ချိန်၌ဝင်သောသူတို့သည်လာ၍ဒေနာရိတပြား
၁၀ စီခံကြ၏၊– အရင်ဝင်သော သူတို့သည် လာကြ
သောအခါ၊ ငါတို့သည်သာ၍ရမည်ဟု စိတ်ထဲ
မှာ ထင်မှတ်သော်လည်း၊ ဒေနာရိ တပြားစီ ခံရ
၁၁ ကြ၏၊–ထိုသို့ခံပြီးလျှင်၊အိမ်ရှင်ကိုကဲ့ရဲ့ပြစ်တင်
၁၂ ၍၊– နောက်ဝင်သော သူတို့သည် တနာရီခန့်မျှ
သာလုပ်ဆောင်သော်လည်း၊ တနေ့လုံး အပူဝန်
ကို ထမ်းရွက်၍ နေပူဆင်းရဲခံရသော အကျွန်ုပ်
တို့နှင့် အညီအမျှ ကိုယ်တော် စီရင်ပါပြီတကား၊
၁၃ ဟုဆိုကြ၏၊–အိမ်ရှင်ကလည်း၊အဆွေ၊ သင့်၌မ
ဘရားသော အမှုကို ငါမပြု၊ ဒေနာရိတပြားကို
အမှတ်ပြု၍ သင်သည်ငါနှင့် ဝန်ခံသည် မဟုတ်
၁၄ လော၊– သင်၏ဥစ္စာကိုယူ၍သွားလော့၊ နောက်
ဝင်သောသူတို့အားသင်နှင့်အညီအမျှပေးခြင်း
၁၅ ငှါငါအလိုရှိ၏၊– ငါသည်ကိုယ်ဥစ္စာကိုပြုလိုသမျှ
မပြုရာသလော၊ ငါသဘောကောင်းသောကြောင့်
သင်သည်မျက်စိနီးကြီးရသလောဟုဆိုလေ၏၊–
၁၆ ထိုနည်းတူ၊ နောက်ကျသော သူတို့သည် အရင်
ကျ ကြ လိမ့် မည်၊ အ ရင် ကျ သော သူ တို့ သည်
နောက်ကျကြလိမ့်မည်၊ ခေါ်တော်မူသော သူအ
များရှိသော်လည်း၊ရွေးကောက်တော်မူသောသူ
နည်းသည်ဟုမိန့်တော်မူ၏၊
၁၇ ယေရှုသည် ယေရုရှလင်မြို့သို့တက်ကြွတော်
မူစဉ်၊လမ်းခရီး၌ တကျိပ်နှစ်ပါးသောတပည့်
၁၈ တော်တို့ကို ဆိတ်ကွယ်ရာအရပ်သို့ခေါ်၍၊– ငါ
တို့သည် ယေရုရှလင်မြို့သို့ တက်သွားကြ၏၊ လူ
သားသည် ယဇ်ပုရောဟိတ် အကြီး၊ ကျမ်းပြု
ဆရာတို့ထက်သို့ရောက်လိမ့်မည်၊ ထိုသူတို့သည်
၁၉ သေပြစ်ကို စီရင်ကြလိမ့် မည်၊– လူသားအား
ဖျက်ရယ်ပြုခြင်း၊ ရိုက်ပုတ်ခြင်း၊ လက်ဝါးကပ်
တိုင်မှာရိုက်ထားခြင်းကို ပြုစေခြင်းငှါတပါးအ
မျိုးသားတို့ထက်သို့အပ်နှံကြလိမ့်မည်၊သုံးရက်
မြောက်သော နေ့၌ ထမြောက်လိမ့်မည်ဟု မိန့်
တော်မူ၏၊
၂၀ ထိုအခါဇေဗေဒဲ၏သားတို့အမိသည် သားတို့
နှင့်အတူအထံတော်သို့ချဉ်း၍ပြပ်ဝပ်လျက်၊ဆု
ကျေးဇူးကို တောင်းပန်လေ၏၊ ကိုယ်တော်က၊
သင်သည်အဘယ်ဆုကျေးဇူးကိုအလိုရှိသနည်း
၂၁ ဟု မေးတော် မူသော်၊– ကိုယ်တော်၏ နိုင်ငံတွင်
ကျွန်မ၌ ဤ သားနှစ် ယောက် တို့ သည် လက်ျာ
တော်ထက်၌ တယောက်၊ လက်ဝဲ တော်ထက်၌
တယောက်၊ထိုင်ရသောအခွင့်ကို ပေးတော်မူပါ
၂၂ ဟု လျှောက် လေ၏၊– ယေရှုကလည်း၊ သင်တို့
သည် အဘယ်သို့တောင်းပန်သည်ကို သင်တို့မ
သိကြ၊ ငါသောက်ရ အံ့သော ခွက်ကို သောက်
ခြင်းငှါ၎င်း၊ ငါ ခံသောနှစ်ခြင်းကို ခံခြင်းငှါ၎င်း၊
သင်တို့သည်တတ်စွမ်းနိုင်သလောဟုမေးတော်
မူလျှင်၊အကျွန်ုပ်တို့သည်တတ်စွမ်းနိုင်ပါ၏ဟု
၂၃ လျှောက်ကြသော်၊– ငါ၏ခွက်ကို သင်တို့သည်
သောက်ရ ကြ လိမ့်မည်၊ ငါ ခံသော နှစ်ခြင်းကို
လည်း၊ သင်တို့သည် ခံရကြလိမ့်မည်၊ သို့သော်
လည်း၊ငါ၏လက်ျာဘက်၊လက်ဝဲဘက်မှာထိုင်ရ
သော အခွင့်ကိုကား၊ အကြင်သူတို့အဘို့ အလို့ငှါ
ငါ ခမည်းတော်သည် ပြင် ဆင်၏၊ ထိုသူတို့ အား
သာငါပေးနိုင်သည်ဟုမိန့်တော်မူ၏၊
၂၄ အခြားသော တပည့် တော် တကျိပ် တို့ သည်
ကြားသိလျှင်၊ ထိုညီအစ်ကို နှစ်ယောက် တို့ကို
၂၅ အ မျက် ထွက် ကြ၏၊– ယေရှုသည် ထိုသူတို့ကို
ခေါ်တော်မူ၍၊ သင်တို့သိသည်အတိုင်းလောကီ
၂၆ မင်းတို့သည်အမိုးအရပြုတတ်ကြ၏၊– အကဲအ
၂၇ ရာတို့သည်အာဏာထားတတ်ကြ၏၊– သင်တို့

မှုကား၊ ထိုသို့မဟုတ်ကြနှင့်၊ လူသား၊ ထည်သူတပါး
၂၈ ကို စေစားခြင်းငှါ မလာ၊– သူတပါး ထံစေကိုခံ
ရင်းငှါလည်း၊ မိမိအသက်ကို စွန့်၍ လူများကိုရွေး
ရင်းငှါလည်းကြွလာသည်ဖြစ်၍၊ ထိုနည်းတူ၊ ထင်
ထိုတွင်အကဲအမှူးပြုလိုသောသူကိုသင်တို့အစေ
ခံဖြစ်စေ၊ ထင်တို့တွင် အထွဋ် အမြတ် ထုပ်ချစ်
လောသူကိုလည်း၊ သင်တို့ ကျွန် ဖြစ်စေ ထု မိန့်
တော်မူ၏၊

၂၉ ယေ·ရိခေါမြို့မှထွက ယွားကြစည်တွင်လူများ
အပေါင်းတို့သည် နောက်တော်သို့ လိုက်ကြ၏။–
၃၀ ယေရှု သည် ကြွသွားတော် မူကြောင်း ကို လမ်း
နားမှာထိုင်နေသောလူကန်း နှစ်ယောက်တို့သည်
ကြားရလျှင်၊ ဒါဝိဒ်၏သားတော်အရှင်၊ အကျွန်ုပ်
တို့ကိုကယ်မသနားတော်မူပါဟုဟစ်ကြော်ကြ
၃၁ ၏။–ထိုသူတို့ကိုတိတ်ဆိတ်စွာနေစေခြင်းငှါလူအ
စုအဝေး တို့သည် ငေါက်၍ ဆိုကြ သော်လည်း၊
ဒါဝိဒ်၏သားတော်အရှင်၊ အကျွန်ုပ်တို့ကို ကယ်
မသနား တော် မူပါထုသာ၍ တစ်ကြော် ကြ၏။–
၃၂ ယေရှု သည်လည်း ရပ်တော်မူလျက်ထိုသူတို့ကို
ခေါ်၍၊သင်တို့၌အထယ်သို့ ပြုစေလိုထနည်းထု
၃၃ မေးတော်မူလျှင်၊–သခင်၊ အကျွန်ုပ်တို့မျက်စိကို
ပွင့်ထင်းစေခြင်းငှါ ပြုတော်မူပါထု လျှောက်ကြ
၃၄ သော်၊– ယေရှုသည် သနားခြင်း စိတ်တော်ရှိ၍
သူတို့မျက်စိကို ထက်နှင့်ထိုတော်မူ၏၊ ထိုခဏ
ချင်းတွင်ထိုသူတို့သည်မျက်စိမြင်၍နောက်တော်
သို့လိုက်ကြ၏၊

၂၁

၁ ယေရုရှလင်မြို့အနီးသို့ချဉ်း၍ သံလွင်တောင်
ခြေရင်း၌ ဗက်ဖာဂေရွာ သို့ ရောက်ကြသောအ
ခါ၊ယေရှုသည် တပည့်တော် နှစ်ယောက်တို့ကို
၂ စေလွှတ်၍၊– သင်တို့ရှေ့၌ ရှိသောရွာသို့ သွား
ကြ၊ထိုရွာ၌ဘူည်နှောင်လျက် ရှိသောမြည်းမနှင့် မြ
ည်းကလေးကို သင်တို့သည်ချက်ချင်းတွေ့လိမ့်မည်၊
၃ မြင်းကိုဖြည်၍ငါ့ထံသို့ဆောင်ခဲ့ကြ၊–သူတပါး
သည် သင်တို့အား၊ တစုံတခုကို ဆိုလျှင်၊ ထခင်
အလို ရှိသည်ထု ပြန်ပြော ကြလော့၊ ထိုသို့ ပြော
လျှင်၊ ထိုသူသည်ချက်ချင်းပေးလိုက်မည်ထု မှာ
၄ ထား တော်မူ၏။– ထိုအကြောင်း အရာ မှုကား၊
ထင်၏ အရှင်မင်းကြီးသည် မြည်းမနှင့် မြည်းကလေးကို
၅ စီး၍၊– နူးညံ့သိမ်မွေ့သော စိတ်နှင့်သင်ရှိရာသို့
ကြွ လာတော် မူသည် ကို ကြည့်ရှု လော့ ထု၊ ဇိ
အုန်သတို့သမီးအားပြောကြလော့ဟူသောပရော
ဖက် ၏ နှုတ်ထွက် ပြည့်စုံ မည် အကြောင်း ဖြစ်
သတည်း။
၆ တပည့်တော်တို့သည် သွား၍ အမိန့်တော်အ
၇ တိုင်း၊ပြုသဖြင့်၊–မြည်းမနှင့်မြည်းကလေးကိုဆောင်ခဲ့၍
မြင်းကြော ပေါ်မှာ မိမိ တို့ အ ဝတ် ကို တင် ကြ ပြီး
၈ လျှင်၊ကိုယ်တော်သည် စီးတော်မူ၏၊– အတိုင်းမ
သိ များစွာသော လူတို့ ထည် မိမိ တို့ အဝတ် ကို
ထမ်းခင်းကြ၏၊ အချို့တို့သည် သစ်ကိုင်းအခက်
၉ တော် များ ကို ခုတ် ၍ ထမ်း၌ ခင်း ကြ ၏။– ရှေ့
နောက်လိုက်သွားသော အခြံအရံများတို့က၊ ဒါ
ဝိဒ်၏သားတော်အား ဟောသန္နာဖြစ်စေသတည်း။
ထာဝရဘုရား၏ အ ခွင့်နှင့် ကြွလာတော်မူသော
သူ သည် မင်္ဂလာ ရှိ စေ သ တည်း။ ကောင်း ကင်
ထ ဝတ်ဝယ်ထောသန္နာဖြစ်စေသတည်းဟုကြွေး
၁၀ ကြော်ကြ၏၊–ယေရုရှလင်မြို့သို့ဝင်တော်မူသော
အခါ တမြို့လုံး ဖုတ် ဖုတ် သဲသဲ ဖြစ် ၍၊ ဤသူ
၁၁ ကား အဘယ်သူနည်းဟုမေးမြန်းကြလျှင်၊– လူ
အစုအဝေးတို့က၊ဤသူသည်ဂါလိလဲပြည်နာဇ
ရက် မြို့ ပေါ်ထွန်း သော ပရော ဖက် ယေရှု ပေ
တည်းဟုပြောဆိုကြ၏၊
၁၂ ယေရှုသည် ဘုရားသခင်၏ ဗိမာန် တော်သို့
ဝင်တော်မူပြီးလျှင်၊ ဗိမာန်တော်၌ ရောင်းဝယ်
သောသူအပေါင်းတို့ကိုနှင်ထုတ်၍၊ ငွေလဲသော
သူတို့၏စားပွဲများကိုလည်း၊ ချိုးငှက်ရောင်းသောသူတို့
၏ ထိုင်နေရာကိုလည်း တွန်းလှည်းတော်မူလျှက်၊–
၁၃ ငါ၏အိမ်ကို ဆုတောင်းရာအိမ်ဟူ၍ ခေါ်ဝေါ်ကြ
ထတ့် ထု ကျမ်း စာ၌ လာ သော်ထည်း၊ ထင်တို့
ထည် ထို အိမ်ကို ထား ပြတွင်း ဖြစ်စေ ကြပြီ ထ
၁၄ ကားဟုမိန့်တော်မူ၏။– ထိုအခါ ဗိမာန်တော်၌
မျက်စိကန်းသောသူ၊ ခြေမစွမ်းသောသူတို့ထည်
အထံတော်သို့လာ၍သူတို့ အနာရောဂါကို ငြိမ်း
၁၅ စေတော်မူ၏၊– ကိုယ်တော် ပြုတော်မူသော အံ့
သြဖွယ် အမှုတို့ကိုလည်း၊ သူငယ်တို့က ထည်း၊
ဒါဝိဒ်၏ သား တော် အား ဟောသန္နာ ဖြစ် စေသ
တည်းထု၊ ဗိမာန်တော်၌ ကြွေးကြော်ကြသည်
ကိုလည်းယဇ်ပုရောဟိတ်အကြီး၊ကျမ်းပြုဆရာတို့
၁၆ ထည်ကြားမြင်လျှင် အမျက်ထွက်ကြ၍၊–ဤသူ
တို့ထည် အဘယ်သို့ ပြောဆိုထည်ကို ကြားသ
လောထု ယေရှုအားမေးကြလော်၊ ငါကြား
၏၊ နို့စို့သူငယ်တို့နှုတ်ထဲမှကိုယ်တော်သည်ငြိ
မ်းခြင်းကိုဖွင့်ဆင်တော်မူသည်ဟူသောစကား
ကို၊ သင်တို့သည်အဘယ်အခါမျှမဖတ်ဘူးသလော

၁၇ ထုမိန့်တော်မူ၏- ထိုအခါ လူထိုကို ထားခဲ့၍ မြို့
ထဲမှထွက်ပြီးလျှင်၊ဗေသနိရွာသို့ကြွ၍ထိုညဉ့်
ကိုလွန်စေတော်မူ၏၊
၁၈ နံနက်အချိန်၌မြို့သို့ပြန်စဉ်တွင်ဆာမွတ်တော်
၁၉ မူ၏၊- ထမ်းနားမှာ သင်္ဘောသဖန်းပင်တပင်ကို
မြင်လျှင်၊ထိုအပင်သို့ကြွသွား၍ အရွက်ကိုသာ
တွေ့တော်မူသည် ရှိသော်၊ ယခုမှစ၍ အစဉ်
မပြတ် သင်၌အသီးမသီး စေနှင့်ဟု မိန့် တော်မူ
လျှင်၊ ထိုအပင်သည် ချက်ချင်း ခြောက်ခြောက် သေ
၂၀ ၏၊- တပည့်တော်တို့သည်မြင်လျှင်၊ သင်္ဘောသ
ဖန်းပင်သည်ချက်ချင်း ခြောက်ခြောက်ပါပြီတကား
၂၁ ဟုအံ့ဩ၍ဆိုကြ၏၊- ယေရှုကလည်း၊ ငါအ
မှန် ဆိုသည်ကား၊ သင်တို့သည် ယုံမှားခြင်းနှင့်
ကင်းသော ယုံကြည်ခြင်းရှိလျှင်၊သင်္ဘောသဖန်း
ပင်၌ပြုသကဲ့သို့ သင်တို့ပြုနိုင်သည်သာမက၊ ထို
တောင်ကိုပင်၊ နေရာမှရွေ့လော့၊ ပင်လယ်၌ ကျ
လော့ဟု ဆို လျှင်၊ ဆို သည် အ တိုင်း ဖြစ် လိမ့်
၂၂ မည်၊- ယုံကြည် ခြင်း ဟိ လျက် ပဌနာ ပြု၍ ဆု
တောင်းသမျှတို့ကို သင်တို့သည် ရကြလိမ့်မည်
ဟုမိန့်တော်မူ၏၊
၂၃ ဗိမာန်တော်သို့ ဝင် ပြန်၍ ဆုံးမ ဩဝါဒ ပေး
တော်မူစဉ်တွင်၊ ယဇ်ပုရောဟိတ်အကြီးတို့နှင့်
လူတို့တွင် အကြီးအကဲ ဖြစ်သောသူတို့သည် အ
ထံတော်သို့ချဉ်းကပ်၍၊ကိုယ်တော်သည်ဤအ
မှုများကို အဘယ်အခွင့်နှင့် ပြုသနည်း၊ ထိုအ
ခွင့်ကို အဘယ်သူ ပေးသနည်းဟု မေးလျှောက်
ကြသော်၊-ယေရှုက၊ငါသည်တခုတခုကိုမေးဦး
မည်၊သင်တို့ဖြေလျှင်၊ဤအမှုများကိုအဘယ်အ
၂၄ ခွင့်နှင့်ငါပြုသည်ကို ငါပြောမည်၊- ယောဟန်၏
နှစ်ခြင်း တရား သည် အဘယ်က ဖြစ် သနည်း၊
ဘုရားကဖြစ်သလော၊ လူကဖြစ်သလောဟုမေး
တော်မူ၏၊ ထိုသူတို့သည် အချင်းချင်းဆင်ခြင်၍၊
ဘုရားက ဖြစ် သည်ဟု ငါတို့ ဖြေလျှင်၊ သင်တို့
သည်ယောဟန်ကိုအဘယ်ကြောင့်မယုံသနည်း
၂၅ ဟုသူမေးလေဦးမည်၊- လူကဖြစ်သည်ဟု ငါတို့
ဖြေလျှင်၊လူများကိုကြောက် ရ၏၊အကြောင်းမူ
ကား၊လူအပေါင်းတို့သည်ယောဟန်ကိုပရောဖက်
ကဲ့သို့ ထင်မှတ် ကြ၏ ဟု အချင်းချင်းဆင်ခြင်ပြီး
၂၆ မှ၊- အကျွန်ုပ်တို့ပမသိပါဟုယေရှုအားပြန်ပြော
ကြ၏၊ကိုယ်တော်ကလည်း၊ထိုအတူ၊ဤအမှုများ
ကိုအဘယ်အခွင့်နှင့်ငါပြုသည်ကိုငါမပြော၊
၂၇ သင်တို့သည်အဘယ်သို့ထင်ကြသနည်း၊တခု
တယောက်သောသူ၌ သားနှစ်ယောက်ရှိ၏၊
သားအကြီးဆီသို့သွား၍၊ သား၊ ယနေ့ စပျစ်
ဥယျာဉ်သို့သွား၍လုပ်ဆောင်လော့ဟု ဆိုလျှင်၊
၂၈ သားက၊ ငါမသွားဘူးဟုပြန်ပြောသော်လည်း၊
၂၉ နောက်မှနောင်တရ၍သွားလေ၏၊- အဖသည်အ
ခြားသောသားဆီသို့ သွား၍ ရှေးနည်းအတူ ဆို
လျှင်၊ သားက၊ သွား ပါမည် အဖ သခင် ဟု ဆို
၃၀ သော် လည်း၊ မ သွား ဘဲ နေ ၏၊- ထို သား နှစ်
ယောက်တို့တွင်အဘယ်သူသည်အဖ၏အလိုကို
ဆောင်သနည်းဟုမေးတော်မူလျှင်၊ သားအကြီး
ဆောင်ပါသည်ဟု လျှောက်ကြသော်၊ ယေရှုက
လည်း၊ ငါအမှန် ဆိုသည်ကား၊ အခွန်ခံတို့နှင့်
ပြည့်တန်ဆာ တို့ သည် သင်တို့ အရင်၊ ဘုရား
၃၁ သခင် ၏ နိုင်ငံတော် သို့ ဝင်တတ် ကြ ၏၊- အ
ကြောင်းမူကား၊ယောဟန်သည်ဖြောင့်မတ်သော
အကျင့်ကိုကျင့်၍သင်တို့ဆီသို့လာသော်လည်း၊
သင်တို့မယုံကြည်ကြ၊ အခွန်ခံတို့နှင့် ပြည့်တန်
ဆာတို့မူကား ယုံကြည်ကြ၏၊ ထိုအကြောင်းကို
သင်တို့သည်မြင်သော်လည်း၊ ယုံကြည်ပြည့်အ
ကြောင်းနောက်တဖန်နောင်တမရကြ၊
၃၂ အခြားသော ဥပမာကို နားထောင်ကြလော့၊
အိမ်ရှင်တဦးသည် စပျစ်ဥယျာဉ်ကို စိုက်ပျိုး၍၊
စောင်ရန်းကိုလုပ်ပြီ၊မှစပျစ်သီးနယ်ရာကျင်းကို
တူးထေ၏၊ မျှော်စင်ကိုလည်းထောက်ထေ
၏၊ လုပ်ဆောင်သောသူတို့အားဥယျာဉ်ကိုငှါး၍
၃၃ အခြားသော ပြည်သို့ သွားလေ၏၊- အသီးသီး
မှည့်ရောက် သော အခါ၊ အသီးကို ခံစေ ခြင်းငှါ
ငယ်သားတို့ကိုဥယျာဉ်စောင့်တို့ရှိရာသို့စေလွှတ်
၃၄ လေ၏၊- ထိုသူတို့သည်ငယ်သားများကိုဖမ်းပြီး
လျှင်တဦးကို ရိုက်၍၊တဦးကိုသတ်၍၊တဦးကိုခဲ
၃၅ နှင့် ပစ်ကြ၏၊- နောက်တဖန် အရင် ထက် များ
သော အခြားငယ်သားတို့ကို စေလွှတ်ပြန်လျှင်၊
ဥယျာဉ်စောင့်တို့သည် ရှေးနည်းအတူပြုကြ၏၊-
၃၆ နောက်ဆုံး၌ဥယျာဉ်ရှင်က၊ထိုသူတို့သည်သား
ကို အားနာကြလိမ့်မည်ဟု ဆို၍ မိမိသားကိုစေ
၃၇ လွှတ်လေ၏၊-ဥယျာဉ်စောင့်တို့သည်သားကိုမြင်
လျှင်၊ ဤသူသည် အမွေခံဖြစ်၏၊ လာကြ၊ သူကို
သတ်၍ သူ၏ အမွေ ဥယျာဉ်ကို ယူကြကုန်အံ့ဟုအ
၃၈ ချင်းချင်းတိုင်ပင်၍၊- ဥယျာဉ်ရှင်၏သားကိုဖမ်း
လျှင်ပြီးမှ ဥယျာဉ်ပြင်သို့ထုတ်၍သတ်ဖြစ်ကြ၏၊-
၃၉ သို့ဖြစ်လျှင်၊ ဥယျာဉ် ရှင်သည် လာ သောအခါ၊
၄၀ ဥယျာဉ်စောင့်ထိုကို အဘယ်သို့ပြုမည်နည်းဟု

၄၁ မေးတော်မူ၏၊-ပရိသတ်တို့ကလည်း၊ ထိုလူဆိုး
တို့အား ဆိုးသော ဖျက်ဆီးခြင်းကို စီရင်ပါလိမ့်
မည်း၊ အသီးသီးမှီန်တွင် အသီးကိုဆတ်ထံ့သော
အခြားလူတို့အား၊ ထိုဥယည်ကိုငှါးပါလိမ့်မည်
ဟုလျှောက်ကြ၏၊
၄၂ ယေရှုကလည်း၊ တိုက်ကို တည်လုပ်သောသူ
ရှားပယ်ထားသောကျောက်သည်နောက်တဖန်
တိုက်ထောင့်အထွဋ်ဖြစ်သို့ရောက်ပြန်၏၊ ထိုအ
မှုသည် ထာဝရဘုရား ပြုတော်မူသော အမှုဖြစ်
၏၊ ငါတို့မျက်မှောက်၌လည်းထံ့ဩြဘွယ်ဖြစ်
၏ဟူသောစကားကို၊ ကျမ်းစာ၌သင်တို့သည်တ
၄၃ ရံတခါမျှမဖတ်ဘူးသလော၊-ထိုကြောင့်၊ ငါဆို
သည်ကား၊ ဘုရားသခင်၏ နိုင်ငံတော်ကိုသင်တို့
မှနှုတ်၍၊ နိုင်ငံတော်၏ အသီးကိုသီးထံ့သော လူ
၄၄ မျိုးအား ပေးရလတံ့၊- အကြင်သူသည် ထို
ကျောက်အပေါ်သို့ကျ၏၊ ထိုသူသည်ကျိုးလတံ့၊
အကြင်သူ၏ အပေါ်သို့ ထိုကျောက်သည် ကျ၏၊
ထိုသူသည်ညက်ညက်ကြေလတံ့ဟု မိန့်တော်မူ
၄၅ ၏၊-ထိုဥပမာစကားကိုယဇ်ပုရောဟိတ်အကြီး
နှင့်ဖာရိရှဲတို့သည် ကြားရလျှင်၊ မိမိတို့ကိုရည်
ဆောင်၍ ဟောပြောတော်မူသည်ကို သိကြ၏၊-
၄၆ ကိုယ်တော်ကို ဖမ်းဆီးခြင်းငှါ ရှာကြံသော်
လည်း၊ စုဝေးသောသူရှားကိုကြောက်ကြ၏၊ အ
ကြောင်းမူကား၊ ထိုသူတို့သည် ကိုယ်တော်ကို
ပရောဖက်ကဲ့သို့ထင်မှတ်ကြ၏၊

၂၂

၁ တဖန်ယေရှုသည်ဥပမာကိုဆောင်၍ပရိသတ်
၂ တို့အား မိန့်မြွက်တော်မူသည်ကား၊- ကောင်း
ကင်နိုင်ငံတော်သည်၊ မိမိသားအဘို့ထိမ်းမြားမင်္ဂ
လာဆောင်ပွဲကို စီရင်သော မင်းကြီးနှင့် တူ၏၊-
၃ ထိုမင်းကြီးသည် ဖိတ်ပြီးသောသူတို့ကို ခေါ်စေ
ခြင်းငှါလုလင်တို့ကို စေလွှတ်သောအခါ၊ ထိုသူ
၄ တို့သည်မလာသဲနေကြ၏၊- တဖန်အခြားသော
လုလင် တို့ကို စေလွှတ်၍၊ ငါပွဲကို ငါပြင်ဆင်ပြီး၊
နွားမှစသောဆုပ်ရှိးသောတိရိစ္ဆာန်များကိုသတ်
၍ပြီ၊ ပြီ၊ အဝုံးစုံတို့သည် အသင့်ရှိပြီ၊ မင်္ဂလာ
ဆောင် ပွဲသို့ လာကြပါ ဟု၊ ဖိတ်ပြီးသော သူတို့
၅ အားပြောကြဟုမှာလိုက်ပြန်၏၊-သို့သော်လည်း၊
ထိုသူတို့သည် နားမထောင်ဘဲ၊ အချို့ တို့သည်
မိမိလယ်သို့သွားကြ၏၊ အချို့တို့သည်ကုန်သွယ်
၆ ရာသို့ သွားကြ၏၊- ကြွင်းသော သူတို့ သည်
လည်း၊ လုလင်တို့ကိုဖမ်းဆီး၍ ညှဉ်းဆဲခြင်း၊
၇ အသေသတ်ခြင်းကိုပြုကြ၏၊- ထိုမင်းကြီးသည်
ကြားလျှင်အမျက်ထွက်၍စစ်ရှိ(ယ)ကိုစေလွှတ်၍ ထိုအ
သတ်ကိုသတ်သောထိုလူတို့ကိုအပြီးဖျက်ဆီး၍
လူတို့၏မြို့ကိုမီးရှို့လေ၏၊
၈ ထိုနောက်မှမင်းကြီးသည်လုလင်တို့ကိုခေါ်၍၊
ငါ၏မင်္ဂလာဆောင်ပွဲသည်အသင့်ရှိ၏ ခေါ်ဖိတ်
သော သူတို့သည် မထိုက်မတန်သောကြောင့်၊-
၉ လမ်းမ လမ်းကြားသို့သွား၍ တွေ့ထမှုသောသူ
တို့ကို ပွဲသို့ခေါ်ဖိတ်ကြဟု အမိန့်တော်ရှိသည်
၁၀ အတိုင်း၊- လုလင်တို့သည် လမ်းရှားသို့ ထွက်
သွား၍၊ ကောင်းမကောင်း တွေ့သမျှသောသူအ
ပေါင်းတို့ကိုစုဝေးစေ၍ ပွဲတော်၌ အပြည့်ရှိလေ
၁၁ ၏၊- မင်းကြီးသည် ပွဲ၌ လျောင်းသော သူတို့ကို
ကြည့်ရှုခြင်းငှါ ဝင်တော်မူ သောအခါ၊ မင်္ဂလာ
ဆောင်ပွဲ၏အဝတ်ကိုမဝတ်သောသူတယောက်
၁၂ ကိုမြင်လျှင်၊-အဆွေ၊ မင်္ဂလာဆောင်ပွဲ၏အဝတ်
မရှိဘဲအဘယ်ကြောင့်ဝင်သနည်းဟု မေးတော်
၁၃ မူသည်ကိုထိုသူသည်မပြောနိုင်ဘဲနေ၏၊- ထိုအ
ခါ မင်း ကြီး သည် အခြွေ အရံ တို့ အား၊ ထိုသူ၏
ထက်ခြေကို တုပ်နှောင်လော့၊ ပို့ဆောင်ခြင်း၊ ထံ
သွား၍ကြိတ်ခြင်းဖြစ်ရာ၊ ပြင်အရပ်မှောင်မိုက်ထဲ
၁၄ သို့ ယူသွားချလိုက်ကြဟု အမိန့်တော်ရှိ၏၊- ထို
သို့ ခေါ်တော်မူသော သူအရှား ရှိသော်လည်း၊
ရွေးကောက်တော် မူသော သူနည်းသည်ဟု မိန့်
တော်မူ၏၊
၁၅ ထိုအခါ ဖာရိရှဲတို့သည် ထွက်သွား ပြီးလျှင်၊
ငါတို့သည် သူ၏ စကားကို ရှောင်းမြောင်း၍ အ
ပြစ် ပြု ခွင့်ကို အဘယ်သို့ ရနိုင်သနည်းဟု မေး
၁၆ မြန်းတိုင်ပင်ပြီးမှ၊- မိမိတပည့်တို့နှင့်ဟေရုဒ်အ
ပည့် တို့ကို အထံ တော် သို့ စေလွှတ် ၍၊ အရှင်
ဘုရား၊ ကိုယ်တော်သည်သစ္စာရှိပါ၏၊ အဘယ်
သူကိုမျှမကြောက်၊ လူမျက်နှာကိုမထောက်ဘဲ၊
ဘုရားသခင်၏ တရားလမ်းကို ထုတ်မှန်စွာ ပြ
၁၇ တော်မူသည်ကိုအကျွန်ုပ်တို့သိကြပါ၏၊-သို့ဖြစ်
၍၊ ကိုယ်တော်သည်အဘယ်သို့ ထင်တော်မူသ
နည်း၊ ကဲသာဘုရင်အား၊ အခွန်ကိုဆက်အပ်ထိုက်
သလော၊ မဆက်အပ်သလော၊ အကျွန်ုပ်တို့အားမိန့်
တော်မူပါဟု မေးလျှောက်ကြ၏၊- ယေရှုသည်
ထိုသူတို့၏ ဆိုးညစ်သော သဘောကို သိတော်မူ
လျှင်၊ လှည့်ဖြားသောသူတို့၊ အဘယ်ကြောင့်ငါကို
စုံစမ်းနှောင့်ရှက်ကြသနည်း၊-အခွန်ငွေတပြား
ကိုပြပါဟုမိန့်တော်မူ၍၊ ဒေနာရိအပြားကိုယူ၍

၂၀ ကြ၏။-ဤပုံ၊ ဤလိပ်စာကား၊ အဘယ်သူ၏ပုံ၊ အ
ဘယ်သူ၏ လိပ်စာ ဖြစ် သနည်း၊ ဟု မေး တော်မူ
၂၁ လျှင်၊- ကဲသာ ဘုရင်၏ပုံ၊ လိပ်စာ ဖြစ်ပါသည်
ဟုလျှောက်ကြသော်၊ ယေရှုက ထည်း၊ ကဲသာ
ဘုရင်၏ ဥစ္စာကို ကဲသာဘုရင် အား ဆက်ပေး
ကြလော့၊ ဘုရားသခင်၏ ဥစ္စာကို ကား ဘုရား
သခင်အားဆက်ပေးကြလော့ဟု မိန့်တော်မူ၏။-
၂၂ ထိုသူ တို့ သည် ကြား ရလျှင် အံ့ ဩ၍ အထံ
တော်မှထွက်သွားကြ၏။
၂၃ ထမြောက်ရှင်ပြန်ခြင်းမရှိဟူ၍ အယူရှိသော
ဇဒ္ဒုကဲတို့သည်ထိုနေ့၌ အထံတော်သို့ချဉ်းကပ်
၂၄ ၍၊- အရှင်ဘုရား၊ လူမည်သည်ကား၊ သားမရှိ
ဘဲသေလျှင်၊သူ၏မယားကိုသူညီသိမ်းယူ၍အစ်
ကိုအမျိုးမပြတ် ထက် နှယ်စေဟု မောရှေ မိန့်
၂၅ ပါပြီ။-အကျွန်ုပ်တို့တွင်ညီအစ်ကိုခုနစ်ယောက်
ရှိပါ၏။အစ်ကိုအကြီးသည်မိန်းမနှင့်စုံဖက်၍သားမ
ရှိဘဲသေသဖြင့်၊ မိမိမယားကိုမိမိညီနှင့်ကျန်ရစ်
၂၆ စေ၏။- ထိုအတူတယောက်နောက်တယောက်၊
ခုနစ်ယောက်သောညီအစ်ကိုတို့သည် ထိုမိန်းမနှင့်
၂၇ စုံဖက်ပြီးမှ သေကြ၏။- နောက်ဆုံး၌ မိန်းမသည်
၂၈ ထည်းသေလေ၏။-သို့ဖြစ်၍၊ ထမြောက်ရာကာ
လ၌ ထိုမိန်းမသည်ခုနစ်ယောက်သော ညီအစ်ကို
တို့တွင် အဘယ်သူ၏ မယားဖြစ်ရပါမည်နည်း။
ထိုသူအပေါင်းတို့သည်ထိုမိန်းမနှင့် စုံဖက်ခြင်းကို
၂၉ ပြုကြပြီဟုမေးလျှောက်ကြ၏။-ယေရှုကထည်း။
သင် တို့ သည် ကျမ်း စာ ကို နား မလည်၊ ဘုရား
သခင်၏ တန်ခိုးတော်ကို မသိသောကြောင့်မှား
၃၀ သောအယူကို ယူကြ၏၊- ထမြောက်ရာကာလ၌
စုံဖက်ခြင်းကိုမပြု၊ ထိမ်းမြားပေးစားခြင်းကို မ
၃၁ ပြု၊- ကောင်းကင် သား၊ ဘုရား သခင်၏ တမန်
၃၂ ကောင်းကဲ့သို့ဖြစ်ကြ၏။-ထိုမှတပါး၊သေလွန်သော
သူတို့သည်ထမြောက်ခြင်းအရာမှာ၊ ဘုရားသခင်
က၊ငါသည်အာဗြဟံ၏ဘုရား၊ဣဇာက်၏ဘုရား။
ယာကုပ်၏ ဘုရား ဖြစ်သည်ဟု သင်တို့အား မိန့်
မြွက်တော်မူကြောင်းကို သင်တို့သည် မဖတ်သေး
သလော၊ဘုရားသခင်သည်သေနေသောသူတို့၏
ဘုရားမဟုတ်၊ အသက်ရှင်သောသူတို့၏ ဘုရား
၃၃ ဖြစ်တော်မူသည်ဟု မိန့်တော်မူ၏။- ပရိသတ်
များတို့သည်ကြားရလျှင်၊ဆုံးမဩဝါဒပေးတော်
မူသည်ကိုအံ့ဩခြင်းရှိကြ၏။
၃၄ ဇဒ္ဒုကဲတို့၏ စကားကို ချေတော်မူကြောင်းကို
၃၅ ဖာရိရှဲတို့သည်ကြားလျှင် စုဝေးကြ၍၊- သူတို့
အဝင် အပေါ် ဖြစ် သော ကျမ်းတတ် တ ယောက်
သည်ကိုယ်တော်ကို စုံစမ်းနှောင့်ရှက်ခြင်းငှါ၊-
၃၆ အရှင်ဘုရား၊ ပညတ်တော်ကျမ်း၌ အဘယ်မည်သော
ပညတ်သည်သာ၍ကြီးသနည်းဟုမေးလျှောက်
၃၇ သော်၊- ယေရှုက၊ သင်၏ ဘုရားသခင် ထာဝရ
ဘုရားကိုစိတ်နှလုံးအကြွင်းမဲ့၊ ဉာဏ်ရှိသမျှ
၃၈ နှင့်ချစ်လော့။- ထိုသောပညတ်သည်ပဌမပညတ်
၃၉ ဖြစ်၏။ကြီးမြတ်သောပညတ်လည်းဖြစ်၏။- ထို
မှတပါး၊ ကိုယ်နှင့်စပ်ဆိုင်သောသူကိုကိုယ်နှင့်
အမျှချစ်လော့ဟူသော ဒုတိယပညတ်သည် ပဌ
၄၀ မပညတ်နှင့် တသောတူ၏။- ဤပညတ် နှစ်ပါး
တို့ကား၊ ပညတ်တော်ကျမ်းနှင့် အနာဂတ္တိကျမ်းရှိသ
မျှတို့၏ အချုပ် အချာ ပင်ဖြစ် သ တည်း၊ ဟု မိန့်
တော်မူ၏။
၄၁ ဖာရိရှဲတို့သည် စုဝေး၍ နေကြစဉ်တွင် ယေ
ရှုကၤသင် တို့သည်ခရစ်တော်ကိုအဘယ်သို့ထင်
၄၂ မှတ်ကြသနည်း။-အဘယ်သူ၏သားဖြစ်သနည်း။
ဟု မေးတော်မူလျှင်၊ ဒါဝိဒ်၏ သားဖြစ်သည်ဟု
၄၃ လျှောက် ကြ သော်၊- သို့ဖြစ် လျှင်၊ ဒါဝိဒ်သည်
ခရစ်တော်ကိုသခင်ဟူ၍၊ဝိညာဉ်တော်အားဖြင့်
၄၄ အဘယ်ကြောင့် ခေါ်သနည်း။- ဒါဝိဒ်၏ စကား
မှာ၊ ထာဝရဘုရားက၊သင်၏ရန်သူတို့ကို သင်၏
ခြေတင်ရာ ငါမချမထားမှီတိုင်အောင် ငါ လက်ျာ
ထက်၌ ထိုင် နေလော့ဟု၊ ငါ၏ သခင်အား မိန့်
၄၅ တော်မူသည်ဟုဒါဝိဒ် ဆိုသတည်း။-ထိုသို့ဒါဝိဒ်
သည် ခရစ် တော်ကို သခင် ဟူ၍ ခေါ်လျှင်၊ အ
ဘယ်သို့ သူ၏ သား ဖြစ်သနည်း၊ ဟု မေး တော်မူ
၄၆ သည်ရှိသော်၊- အဘယ်သူမျှ စကား တခွန်းကို
ပြန်လျှောက်ခြင်းငှါ မတတ်နိုင်ကြ။ ထိုနေ့မှစ၍
နောက် တ ဖန် အဘယ် သူမျှ မ မေး မ လျှောက်
ဝံ့ကြ။

၂၃

၁ ထိုအခါ ယေရှုသည်တပည့်တော်တို့နှင့်လူအ
ပေါင်းတို့အား ဟော ပြော တော် မူသည်ကား၊-
၂ ကျမ်းပြုဆရာ၊ ဖာရိရှဲတို့သည်မောရှေ၏ထိုင်ရာ
၃ ပလ္လင်ပေါ်မှာထိုင်ကြ၏။ ထိုကြောင့်၊သူတို့စီရင်
ထုံးဖွဲ့သမျှတို့ကို စောင့်ရှောက်၍ ပြုကြလော့။သူ
တို့၏အကျင့်အတိုင်းမကျင့်ကြနှင့်၊အကြောင်းမူ
ကား၊သူတို့သည်စီရင်ထုံးဖွဲ့သော်လည်းကိုယ်တိုင်
၄ မကျင့်ကြ။ ဝန်ရှုန်လေး၍ ထမ်းခဲသောဝန်
တို့ကိုချည်ဆင်၍ လူတပါးပခုံးပေါ်မှာ တင်တတ်
ကြ၏။ မိမိ တို့မူကား၊ လက်ချောင်းနှင့်မျှ မရွေ့ ထို



 

၅ ကြ။- သူတို့သည် ပြုသမျှသော အကျင့်အမှုတို့
ကို လူများ ရှေ့မှာ ထင်ရှားစေခြင်းငှါ ပြုကြ၏။
ကျယ်သောလက်ဖွဲ့တို့ကိုငင်၊ကြီးသောပန်းပွား
၆ တို့ကိုငင်ဝတ်လေ့ရှိကြ၏။- ပွဲသဘင်၊ တရားဇ
၇ ရပ်တို့၌မြင့်မြတ်သောနေရာထိုင်ရာကိုငင်၊-ဈေး
၌ရှိသောစွာ နှုတ်ဆက်ခြင်းကိုငင်၊ အရှင်ဘုရား၊
အရှင်ဘုရားဟု လူများ ခေါ်ဝေါ်ခြင်းကိုငင် နှစ်
သက်ကြ၏။
၈ သင်တို့မူကား၊ အရှင်ဘုရားဟု ခေါ်ဝေါ်ခြင်း
ကိုမခံကြနှင့်။ခရစ်တော်တည်းဟူသောသင်တို့
ဥပဇ္ဈာယ် ဆရာ တပါး တည်း ရှိ၏။ သင်တို့ အ
၉ ပေါင်းသည် ညီအစ်ကိုချင်းဖြစ်ကြ၏။- မြေကြီး
ပေါ်မှာအဘယ်သူကိုမျှအဖဟူ၍မခေါ်ဝေါ်ကြ
နှင့်။ကောင်းကင်ဘုံ၌သင်တို့အဖတပါးတည်းရှိ
၁၀ တော်မူ၏။-ဥပဇ္ဈာယ်ဆရာဟုခေါ်ဝေါ်ခြင်းကို
မခံကြနှင့်။ ခရစ် တော် တည်း ဟူသော သင် တို့
ဥပဇ္ဈာယ် ဆရာတပါးတည်း ရှိ၏။- သင်တို့တွင်
အကြီး ဖြစ်သော သူသည် သင်တို့ အစေခံ ဖြစ်ရ
၁၂ ၏။-အကြင်သူသည်မိမိကိုချီးမြှောက်အံ့၊ထိုသူ
သည်နှိမ့်ချခြင်းသို့ ရောက်လတံ့။ အကြင်သူသည်
မိမိကို နှိမ့်ချအံ့၊ ထိုသူသည် ချီးမြှောက်ခြင်းသို့
ရောက်လတံ့။
၁၃ လျှို့ဝှက်သောကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊ သင်
တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
ကောင်းကင် နိုင်ငံတော်၏ တံခါးကို လူတို့ရှေ့မှာ
ပိတ်ထား၍၊ မိမိတို့လည်းမဝင်၊ ဝင်လိုသောသူ
တို့ကိုလည်းဆီးတားကြ၏။
၁၄ လျှို့ဝှက်သော ကျမ်းပြုဆရာ၊ဖာရိရှဲတို့၊ သင်
တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
မုဆိုးမအိမ်ကို လုယူသိမ်းစား၍၊ အပြစ်မပေါ်
စေခြင်းငှါ ရှည်စွာသော ပဌနာ စကားကို ရွတ်
တတ်ကြ၏။ ထိုကြောင့်၊ သာ၍ ကြီး စွာ သော
ဒဏ်ကိုခံရကြလတံ့။
၁၅ လျှို့ဝှက်သော ကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊ သင်
တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
လူတယောက်ကိုပင်ဘာသာသွင်းခြင်းငှါ ကုန်း
ကြောင်းရေကြောင်းပတ်ပတ်လှည့်လည်၍၊ဘာ
သာသွင်းပြီးသောသူကိုလည်း၊ မိမိတို့ထက်နှစ်
ဆသော ငရဲသားဖြစ်စေကြ၏။
၁၆ လမ်းပြသော လူကန်းတို့၊သင်တို့သည် အမင်္ဂ
လာရှိကြ၏။ မိတ်မှန်တော်ကို တိုင်တည်၍ ကျိန်
ဆိုခြင်းကိုပြုလျှင်မတည်။မိတ်မှန်တော်၏ရွှေကို
တိုင်တည်၍ ကျိန်ဆိုခြင်းကိုပြုလျှင် တည်သည်
၁၇ ဟုသင်တို့ဆိုကြ၏။-လူမိုက်လူကန်းတို့၊အဘယ်
အရာသည်သာ၍မြတ်သနည်း။ ထိုရွှေကားမြတ်
သလော။ ထိုရွှေကို သန့်ရှင်းစေသော မိတ်မှန်
၁၈ တော်ကားမြတ်သလော။- တနည်းကား၊ ယဇ်
ပလ္လင်ကိုတိုင်တည်၍ ကျိန်ဆိုခြင်းကို ပြုလျှင်မ
တည်။ယဇ်ပလ္လင်ပေါ်မှာရှိသောပူဇော်သက္ကာ
ကို တိုင်တည်၍ ကျိန်ဆိုခြင်းကို ပြုလျှင် တည်
၁၉ သည်ဟု သင်တို့ဆိုကြ၏။- လူမိုက် လူကန်းတို့၊
အဘယ်အရာသည် သာ၍ မြတ်သနည်း။ ထိုပူ
ဇော်သက္ကာကားမြတ်သလော။ထိုပူဇော်သက္ကာ
ကို သန့်ရှင်းစေသော ယဇ်ပလ္လင်ကား မြတ်သ
၂၀ လော။- ထိုကြောင့်၊ ယဇ်ပလ္လင်ကိုတိုင်တည်၍
ကျိန်ဆိုလျှင်၊ ယဇ်ပလ္လင်မှစ၍ယဇ်ပလ္လင်ပေါ်
မှာ ရှိသမျှကို တိုင်တည်၍ ကျိန်ဆို သတည်း။-
၂၁ မိတ်မှန်တော်ကိုတိုင်တည်၍ ကျိန်ဆိုလျှင်၊ မိတ်
မှန်တော်မှစ၍ မိတ်မှန်တော်၌ ကျိန်းဝပ်တော်မူ
သော သူ ကို တိုင် တည်၍ ကျိန် ဆို သ တည်း။-
၂၂ ကောင်းကင်ဘုံကို တိုင်တည်၍ ကျိန် ဆို လျှင်၊
ဘုရားသခင်၏ ပလ္လင် တော်ကိုငင်၊ ပလ္လင်တော်
ပေါ်မှာ ထိုင်တော် မူ သောသူကိုငင် တိုင်တည်၍
ကျိန်ဆိုသတည်း။
၂၃ လျှို့ဝှက်သောကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊ သင်
တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
ပင်စိမ်း၊စမွှတ်၊ဇီယာ၊အသီးအရွက်တို့ကိုဆယ်
ဘို့တဘို့လှူကြသည်တွင်၊တရားသဖြင့်စီရင်ခြင်း၊
သူတပါးကိုသနားခြင်း၊သစ္စာစောင့်ခြင်းတည်း
ဟူသော ပညတ်တရားတွင် လေးသော အရာတို့
ကိုကား လှပ်၍ထားကြ၏။ အရင်ဆိုသောအရာ
တို့ကို မလှပ်မထား၊နောက်ဆိုသော အရာတို့ကို
၂၄ ကျင့်ရမည်။- လမ်းပြသော လူကန်းတို့၊ သင်တို့
သည်ခြင်တကောင်ကိုမျှမပါစေခြင်းငှါရေကိုစစ်
လျက်နှင့်ကုလားအုတ်ကိုမျိုကြ၏။
၂၅ လျှို့ဝှက်သောကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊သင်
တို့သည်အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
ဖလား၊ လင်ပန်းကို အပြင်၌ ဆေးကြော ကြ၏။
အတွင်း၌ကား၊လုယူခြင်း၊ မတရားသဖြင့်ကျင့်
၂၆ ခြင်းနှင့်ပြည့်လျက်ရှိ၏။-မျက်စိကန်းသောဖာရိ
ရှဲ၊ဖလား၊ လင်ပန်းကို အတွင်း၌ ရှေးဦးစွာဆေး
ကြောလော့။ သို့ပြုလျှင်၊ အပြင်ကား သန့်ရှင်း
လိမ့်မည်။
၂၇ လျှို့ဝှက်သောကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊ သင်

တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
အဖြူသုတ်သောသင်းချိုင်းတွင်းနှင့်တူကြ၏။ ထို
တွင်းသည်အပြင်၌ တင့်တယ်စွတကား၊ အတွင်း
၌ကား၊ လူသေအရိုး၊ အညစ်အကြေး အမျိုးမျိုး
၂၈ နှင့် ပြည့်လျက်ရှိ၏။– ထိုအတူသင်တို့သည် အ
ပြင်၌လူတို့ ရှေ့မှာဖြောင့်မတ်ဟန်ရှိ၏။ အတွင်း
၌ကား၊ လှည့်ဖြားခြင်း၊ မတရား သဖြင့် ကျင့်ခြင်း
နှင့် ပြည့်လျက်ရှိကြ၏။
၂၉ လှည့်ဖြားသော ကျမ်းပြုဆရာ၊ ဖာရိရှဲတို့၊ သင်
တို့သည် အမင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
ပရောဖက်မှစ၍ ဖြောင့်မတ်သောသူတို့၏ သင်း
ချိုင်းတွင်းနှင့် အရုပ်တို့ကိုတည်လုပ်၍ တန်
၃၀ ဆာဆင်သဖြင့်၊– ငါတို့သည် ဘိုးဘေးတို့ လက်
ထက်၌ရှိလျှင်၊ ပရောဖက်တို့ကိုသတ်သည်အမှု
၃၁ ကိုလက်မခံပြီဟု ဆိုကြ၏။–ထိုသို့ဆိုသော်၊ သင်
တို့သည် ပရောဖက်တို့ကို သတ်သောသူတို့၏ အ
မျိုး၊ အနွယ်ဖြစ်သည်ကို၊ ကိုယ်အမှု ကိုယ်သက်
၃၂ သေခံကြ၏။–သို့ဖြစ်၍၊ ဘိုးဘေးတို့၏ အကျင့်ပ
၃၃ မာဏကိုမှီအောင်ကျင့်ကြလော့။–မြွေဆိုးအမျိုး
တို့၊ သင်တို့သည် အပြစ်ငရဲမှ အဘယ်သို့ လွတ်
နိုင်ကြမည်နည်း။
၃၄ ထိုကြောင့်၊ ဗျာဒိတ်တော်အချက်ဟူမူကား၊
ပရောဖက်၊ ပညာရှိ၊ ကျမ်းပြုဆရာတို့ကိုသင်တို့
ရှိရာသို့ငါစေလွှတ်၏။ ထိုသူအချို့တို့ကိုကွပ်မျက်
၍လက်ဝါးကပ်တိုင်၌သတ်ကြလိမ့်မည်။ အချို့
တို့ကိုတရားဇရပ်၌ရိုက်၍တမြို့မှတမြို့သို့ညှဉ်း
၃၅ ဆဲ နှင်ထုတ်ကြလိမ့်မည်။– ထိုကြောင့်၊ ဖြောင့်
မတ်သော အာဗေလ ၏ အသွေး မှစ၍၊ အတွင်း
ဗိမာန်တော်နှင့်ယဇ်ပလ္လင်၏အကြား၌သင်တို့
သတ် ကြ သော ဗာရခိ သား ဇာခရိ၏ အသွေး
တိုင်အောင်၊ မြေကြီးအပေါ်၌ သွန်းပြီးသမျှ
သောသူတော်ကောင်းတို့၏အသွေးသည်သင်တို့
၃၆ ခေါင်းပေါ်သို့ ရောက်လိမ့်မည်။– ငါအမှန်ဆို
သည်ကား၊ ဤအရာများတို့သည် ယခုဖြစ်သော
လူများအပေါ်သို့ရောက်ကြလိမ့်မည်။
၃၇ ကိုယေရုရှလင်မြို့၊ ယေရုရှလင်မြို့၊သင်သည်
ပရောဖက်တို့ကို သတ် မြဲရှိ၏။ သင့်ရှိရာ သို့ စေ
လွှတ်သောသူတို့ကိုလည်း ကျောက်ခဲနှင့် ပစ်မြဲ
ရှိ၏။ ကြက်မသည်မိမိသားငယ်တို့ကိုအတောင်
အောက်၌ စုရုံးသကဲ့သို့၊ သင်၏သားတို့ကို စုရုံး
စေခြင်းငှါ ကြိမ်ဖန်များစွာ ငါအလိုရှိပြီ၊ သင်မူ
၃၈ ကားအလိုမရှိ။– သင်တို့နေသော အိမ်သည်သင်
၃၉ တို့၌လူဆိတ်ညံ့လျက်ကျန်ရစ်ရ၏။–ငါဆိုသည်
ကား၊ထာဝရဘုရား၏အခွင့်နှင့်ကြွလာသောသူ
သည်မင်္ဂလာရှိစေသောဟုသင်တို့ မမြွက်မဆိုမှီ
အောင် ယခုမှစ၍၊သင်တို့သည် ငါ့မျက်နှာကို
မမြင်ရကြဟုမိန့်တော်မူ၏။

၂၄

၁ ယေရှုသည် ဗိမာန်တော်မှထွက်ကြွတော်မူ
သည်ရှိသော်၊ တပည့်တော်တို့သည် ဗိမာန်
တော်၏ တိုက် အဆောင် များကို ပြခြင်းငှါ အထံ
၂ တော်သို့ချဉ်းကပ်ကြ၏။– ယေရှုကလည်း၊ ဤ
အရာအလုံးစုံကို သင်တို့သည် မြင်ကြသည်မ
ဟုတ်လော၊ငါအမှန်ဆိုသည်ကား၊ မဖြိုမချသဲ၊
ကျောက်တခုပေါ်မှာ တခုမှမတည်မနေရဟုမိန့်
၃ တော်မူ၏။– ထိုနောက်၊ သံလွင်တောင် ပေါ်မှာ
ထိုင်တော်မူစဉ်၊ တပည့်တော်တို့သည် အခြား
သူမပါဘဲချဉ်းကပ်၍၊ထိုအမှုအရာတို့သည်အ
ဘယ်ကာလမှဖြစ်မည်ကိုငှင်၊ ကိုယ်တော်ကြွ
ကြွ လာ၍ ဤ ကမ္ဘာ ကုန် သော ဝုဂ္ဂ နိမိတ်
သည် အဘယ် နိမိတ် ဖြစ် မည် ကိုငှင်၊ အမိန့်ရှိ
၄ တော်မူပါဟု လျှောက်ကြ၏။– ယေရှုကလည်း၊
သင်တို့ကို အဘယ်သူမျှ မလှည့်ဖြား စေခြင်းငှါ
၅ သတိပြုကြလော့။– အများသော သူတို့က၊ ငါ
သည် ခရစ်တော် ဖြစ်၏ ဟု ဆို လျက်၊ ငါ၏ အ
မောင်ကို ဆောင်၍ ပေါ်လာ သ ဖြင့်၊ လူ အများ
၆ တို့ကို လှည့် ဖြား ကြ လိမ့် မည်။– သင် တို့ သည်
စစ် တိုက်ခြင်း အ ကြောင်း ကိုငှင်၊ စစ် တိုက် ထံ့
သောသိတင်းစကားကိုငှင်ကြားရကြလိမ့်မည်
သို့သော်လည်း၊ စိုးရိမ်တုန်လှုပ်ခြင်းမရှိစေခြင်း
ငှါသတိပြုကြလော့၊ထိုအမှုအရာများသည်ဖြစ်
ရမည်၊သို့သော်လည်း၊အဆုံးသည်မဖြစ်သေး၊
၇ လူတမျိုးနှင့်တမျိုး၊တနိုင်ငံနှင့်တနိုင်ငံရန်ဖက်
ပြုကြလိမ့်မည်၊ အရပ်ရပ်တို့၌ အစာခေါင်းပါး
ခြင်း၊ ကာလနာများပြားခြင်း၊ မြေကြီးလှုပ်ခြင်း
၈ တို့သည်ဖြစ်ကြလိမ့်မည်။–ထိုအမှုအရာတို့သည်
၉ ဒုက္ခဆင်းရဲခြင်း၏အစအဦးဖြစ်သတည်း။–ထို
ကာလ၌လူများတို့သည်သင်တို့ကိုညှဉ်းဆဲခြင်း၊
အသေသတ်ခြင်းကို ခံစေခြင်းငှါ အပ်နှံ ကြလိမ့်
မည်၊ငါ၏နာမကြောင့်လည်း ခပ်သိမ်းသောလူ
၁၀ မျိုးတို့သည်သင်တို့ကိုမုန်းကြလိမ့်မည်။–ထိုကာ
လ၌အများသောသူတို့သည်ဖောက်ပြန်ခြင်းသို့
ရောက်၍၊အချင်းချင်းတယောက်ကိုတယောက်
၁၁ အပ်ကြလိမ့်မည်။– အချင်းချင်းမုန်းကြလိမ့်မည်။

မိစ္ဆာပရောဖက် အများတို့သည် ပေါ်လာ၍ လူ
၁၂ အများတို့ကို လှည့်ဖြားကြလိမ့်မည်။- မတရား
သောအမှုတို့သည်များပြားသဖြင့် အများသော
သူ တို့၏ ချစ်ခြင်း မေတ္တာ သည် ခေါင်းပါး လိမ့်
၁၃ မည်။- အကြင်သူသည်အဆုံးတိုင်အောင်တည်
ကြည်၏၊ ထိုသူသည် ကယ်တင်ခြင်းသို့ ရောက်
၁၄ လိမ့်မည်။-လူမျိုးအပေါင်းတို့အားသက်သေဖြစ်
မည့်အကြောင်း၊ နိုင်ငံတော်နှင့် ဆိုင်သောဧဝံဂေ
လိတရားကိုလောကီ နိုင်ငံအရပ်ရပ် ရှိသမျှတို့၌
ဟောရလိမ့်မည်။သို့ပြီးမှအဆုံးသည် ဖြစ်လတ္တံ့။
၁၅ ထိုကြောင့်၊ပရောဖက်ဒံယေလဟောသည်အ
တိုင်း၊ဖျက်ဆီးတတ်သော စက်ဆုပ်ဖွယ်အရာသည်
သန့်ရှင်း သော အရပ် ဌာန၌ စိုက်နေ သည် ကို
သင်တို့ မြင်ရလျှင်၊ ကျမ်းစာကို ကြည့်သောသူ
၁၆ သည် နားလည် ပါစေ။- ထိုသို့ မြင်ရလျှင်၊ ယုဒ
ပြည်၌ရှိသောသူတို့သည်တောင်ပေါ်သို့ပြေးကြ
၁၇ စေ။- အိမ်မိုးပေါ်မှာရှိသောသူသည် အိမ်ထဲက
၁၈ ဥစ္စာကို ယူခြင်းငှါ မဆင်း စေနှင့်။- လယ်၌ ရှိ
သောသူလည်း မိမိအဝတ်ကိုယူခြင်းငှါနောက်
၁၉ သို့မပြန်စေနှင့်။- ထိုနေ့ရက်၌ ကိုယ်ဝန်ဆောင်
သောမိန်းမနှင့် နို့ကိုသူငယ်ရှိသော မိန်းမတို့သည် အ
၂၀ ဖွန့်ခက်ကြလိမ့်မည်။- သင်တို့ ပြေးရသောအ
ချိန်သည်ဆောင်းကာလ၌မကျ၊ဥပုသ်နေ့၌လည်း
၂၁ မကျမည်အကြောင်းဆုတောင်းကြလော့။- အ
ကြောင်းမူကား၊ ကမ္ဘာဦးမှစ၍ယခုတိုင်အောင်
မဖြစ်စဖူး၊နောက်၌လည်းမဖြစ်လတ္တံ့သော၊ကြီး
စွာသော ဒုက္ခသည် ထိုကာလ၌ ဖြစ်လိမ့်မည်။-
၂၂ ထိုကာလတာရှည်လျှင်၊ အဘယ်သူမျှ မလွတ်
နိုင်ရာ။ ရွေးချယ်သောသူတို့အဖို့အလို့ငှါထိုကာ
လသည်တိုလိမ့်မည်။
၂၃ ထိုအခါသူတပါးက၊ ဤအရပ်၌ ခရစ်တော်ရှိ
သည်၊ ထိုအရပ်၌ ရှိသည်ဟု ဆိုသော် လည်းမ
၂၄ ယုံကြနှင့်။-အကြောင်းမူကား၊ ခရစ်တော်၏အ
ရောင်ကို ဆောင်သော သူနှင့် မိစ္ဆာပရောဖက်တို့
သည်ပေါ်လာ၍၊ရွေးချယ်သောသူတို့ကိုပင်လှည့်
ဖြား နိုင်လျှင်လှည့်ဖြားလောက်အောင်၊ကြီး စွာ
သောနိမိတ်လက္ခဏာ၊ အံ့ဖွယ်သော အမှုတို့ကို
၂၅ ပြကြလိမ့်မည်။- ထိုအကြောင်း အရာတို့ကို ငါ
၂၆ ပြော နှင့်ပြီ။- ထိုကြောင့် သူတို့က၊ ခရစ် တော်
သည်တော၌ ရှိသည်ဟု ဆိုသော်လည်း မထွက်
မသွားကြနှင့်။ တိုက်ခန်း၌ရှိသည်ဟု ဆိုသော်
၂၇ လည်းမယုံကြနှင့်။- လျှပ်စစ်သည်အရှေ့မှပြက်
၍အနောက်တိုင်အောင်ထွန်းလင်းသကဲ့သို့၊ လူ
၂၈ သားသည်ကြွလာတော်မူလတ္တံ့။-အလောင်းကောင်
ရှိရာ၌လင်းတတို့သည်စုဝေးကြလတ္တံ့။
၂၉ ထိုကာလ၏ဒုက္ခဆင်းရဲခြင်းနောက်ချက်ခြင်းနေ
သည်မိုက်လိမ့်မည်။ လသည်အရောင်ကိုမပေး။
ကြယ်တို့သည် ကောင်းကင်မှ ကျကြလိမ့်မည်။
ကောင်းကင် တန်ခိုးတို့သည် တုန်လှုပ်ကြလိမ့်
၃၀ မည်။- ထိုအခါလူသား၏နိမိတ်လက္ခဏာသည်
ကောင်းကင်၌ထင်ရှားလိမ့်မည်။မြေကြီးပေါ်မှာ
လူအပေါင်းတို့သည်ငိုကြွေးမြည်တမ်းကြ၍၊လူ
သား သည် ကြီး စွာ သော ဘုန်းတန်ခိုး အာ နု
ဘော်ကို ဆောင်လျက်၊ မိုဃ်းတိမ်ကိုစီး၍ ကြွ
၃၁ လာတော်မူသည်ကိုမြင်ရကြလိမ့်မည်။-လူသား
သည် မိမိတမန်တို့ကို စေလွှတ်၍ တံပိုးခရာကို
ပြင်းစွာ မှုတ်စေတော်မူသဖြင့်၊ သူတို့သည် ရွေး
ချယ်တော်မူသော သူတို့ကို အရပ်လေးမျက်နှာ၊
ကောင်းကင်အောက်ထက်ဝန်းကျင်တို့မှ ခေါ်၍
စုရုံးကြလတ္တံ့။
၃၂ သင်္ဘောသဖန်းပင်ကို အစွဲပြု၍ ပုံသက်ကို
တခုကိုမှတ်ကြလော့။ သင်္ဘောသဖန်းပင်သည်
အခက် အလက် နု၍ အရွက်ပေါက် သောအခါ
၃၃ နွေကာလနီးသည်ကိုသင်တို့သိကြ၏။- ထိုနည်း
တူ၊ထိုအကြောင်းအရာအလုံးစုံတို့ကိုမြင်ရလျှင်
လူသားသည်တံခါးဝတိုင်အောင်အနီးသို့ ရောက်
၃၄ တော်မူသည်ကိုသိမှတ်ကြလော့။- ငါအမှန်ဆို
သည်ကား၊ယခုဖြစ်သောလူများမကုန်မှီ၊ ထိုအ
ကြောင်းအရာအလုံးစုံတို့သည်ဖြစ်ကြလိမ့်မည်။-
၃၅ ကောင်းကင်နှင့် မြေကြီး မ တည် သော်လည်း၊ ငါ
၃၆ စကား တည်လိမ့်မည်။- ထိုအချိန်နာရီကိုကား
အဘယ်သူမျှမသိ။ ကောင်းကင်တမန်မသိ။ ငါ
မည်းတော်တပါးတည်းသာ သိတော်မူ၏။
၃၇ လူသားသည် ကြွလာသောအခါ နောဧလက်
၃၈ ထက်၌ဖြစ်သကဲ့သို့ဖြစ်လိမ့်မည်။- ရေလွှမ်းမိုး
ခြင်းမဖြစ်မှီကာလ၌နောဧသည်သင်္ဘောထဲသို့
ဝင်သော နေ့ တိုင်အောင်၊ လူများ တို့သည် စား
သောက်လျက်၊ ထိမ်းမြား စုံဖက်လျက် နေ၍၊-
၃၉ ရေလွှမ်း မိုးခြင်း ရောက်သဖြင့်၊ လူ ခပ်သိမ်းတို့
ကို သုတ်သင်ပယ်ရှင်းသည် တိုင်အောင် သတိမဲ့
နေကြသည်နည်းတူ၊ လူသားကြွလာသောအခါ
၄၀ ၌ဖြစ်လိမ့်မည်။- ထိုအခါလယ်၌ရှိသောသူနှစ်
ယောက်တို့တွင် တယောက်ကို သိမ်းယူ၍၊ တ
၄၁ ယောက် မှုကားနေရစ်ရလတ္တံ့။-ကြိတ်ဆုံကြိတ်

သောသူနှစ်ယောက်တို့တွင်တယောက်ကိုသိမ်း
၄၂ ယူ၍၊တယောက်မူကားနေရစ်ရလတ့ံ။-သင်တို့
အရှင်သည် အဘယ် အချိန်နာရီ၌ ရောက်လာ
မည်ကို သင်တို့ မသိသောကြောင့် စောင့်နေကြ
၄၃ လော့။-သူခိုးလာမည်အချိန်နာရီကိုအိမ်ရှင်သိ
ရလျှင်၊ မိမိ အိမ်ကို မထွင်း မဖောက် စေခြင်း
၄၄ ငှါ စောင့်နေလိမ့်မည်ကို သင်တို့ သိကြ၏။- ထို
ကြောင့်၊သင်တို့သည်ဖျင်ဆင်လျက်နေကြလော့။
အကြောင်းမူကား၊ သင်တို့ မထင်မမှတ်သောအ
ချိန်နာရီ၌လူသားသည်ကြွလာလိမ့်မည်။
၄၅ အရှင်သည်မိမိအိမ်သူအိမ်သားအပေါင်းတို့
အား၊ အချိန်တန်လျှင် အစား အသောက် တို့ကို
ဝေဖန် စေခြင်း ငှါ အအုပ် အချုပ် ခန့် ထား၍၊
သစ္စာနှင့်ဌင်၊ သတိပညာနှင့်ဌင် ပြည့်စုံ သော
၄၆ ကျွန်ကားအဘယ်သူနည်း။- အကြင်ကျွန်သည်
ဤသို့ပြုလျက်နေသည်ကိုအရှင်သည်ပြန်လာ၍
၄၇ တွေ့၏၊ ထိုကျွန်သည် မင်္ဂလာရှိ၏။- ငါအမှန်ဆို
သည်ကား၊ အရှင်သည်မိမိဥစ္စာရှိသမျှတို့ကိုထို
၄၈ ကျွန်၌အပ်လိမ့်မည်။-သို့မဟုတ်မူကား၊အကြင်
ကျွန်ဆိုးကား၊ငါ့အရှင်လာခဲလိမ့်မည်ဟုစိတ်ထဲ၌
၄၉ အောင်းမေ့သည်နှင့်၊- ကျွန်ချင်းတို့ကိုရိုက်ပုတ်
လျက်၊ သေသောက်ကျူး သော သူတို့နှင့်တကွ
၅၀ စားသောက်လျက်နေ၏၊-ထိုကျွန်မကြည့်မမျှော်
သောနေ့ရက်၊ မကြား မသိ သောအချိန် နာရီ၌
၅၁ သခင်သည်ရောက်လာလျှင်၊-ထိုကျွန်ကို ပြင်းပြ
စွာ ကွပ် မျက် ဆုံးမ၍၊ ငိုကြွေး ခြင်း၊ အံသွား ခဲ
ကြိတ်ခြင်း ရှိရာအရပ်၌ လျှို့ဝှက်သော သူတို့နှင့်
တကွနေရာချလတ့ံ။

၂၅

၁ ထိုအခါ ကောင်းကင် နိုင်ငံ တော်သည်ကား၊
မင်္ဂလာ ဆောင်လုလင်ကို ခရီးဦး ကြိုပြုအံ့သော
ငှါ မီး ခွက်ကို ကိုင်ယူ၍ ထွက် သွားသောသတို့
၂ သမီးတကျိပ်နှင့်တူ၏။- ထိုသတို့သမီးတို့တွင် ငါး
ယောက်သည်ပညာသတိရှိကြ ၏၊ ငါးယောက်
၃ မူကားအမိုက်ဖြစ်ကြ၏။-မိုက်သောသူတို့သည်
၄ မီးခွက်တို့ကိုသာယူ၍ဆီကိုမယူကြ။- ပညာသ
တိရှိသောသူတို့မူကား၊ မီးခွက်နှင့်တကွဘူး၌ပါ
၅ သောဆီကိုလည်း ယူကြ၏။- မင်္ဂလာဆောင်လု
လင်သည်မလာဘဲနေစဉ်၊ထိုသတို့သမီးအပေါင်း
တို့သည်ငိုက်၍အိပ်ပျော်ကြ၏။
၆ သန်းခေါင်ယံ၌၊ ကြည့်ပါ။ မင်္ဂလာ ဆောင်လု
လင်သည် လာပြီ။ ခရီး ဦး၊ကြို ပြုခြင်းငှါ ထွက်
၇ သွားကြကုန်ဟုကြွေးကြော်လျှင်၊- ထိုသတို့သမီး
အပေါင်းတို့သည် ထ၍ မီး ခွက်များကို ဖျင်ဆင်
၈ ကြ၏။-မိုက်သောသူတို့က၊ငါတို့ဆီမီးသေပါပြီ။
သင်တို့ ဆီကို အနည်းငယ် ပေးပါဟု၊ ပညာ ရှိ
၉ သောသူတို့အား တောင်းကြ၏။- ပညာရှိသော
သူတို့ကလည်း၊ သင်တို့အဖို့နှင့် ငါတို့အဖို့ ဆီမ
လောက်။ ထိုကြောင့်၊ဆီရောင်းသောသူရှိရာသို့
သွား၍ ကိုယ်သုံးဖို့ ဝယ်လျှင် သာ၍ ကောင်း
၁၀ သည်ဟုပြန်ပြောကြ၏။- ထိုသူတို့သည်ဆီဝယ်
သွားသည် အခိုက်တွင် မင်္ဂလာ ဆောင် လုလင်
သည်လာ၍၊ အသင့်ရှိသော သတို့သမီး တို့သည်
လုလင် နှင့် အတူ ပွဲ သို့ ဝင် ကြ ပြီးလျှင်၊ တံခါး
၁၁ ကို ပိတ်ထား၏။- ထိုနောက်၊ ကြွင်းသော သတို့
သမီးတို့သည်လာ၍၊အရှင်၊အရှင်၊ကျွန်မတို့အား
တံခါးကိုဖွင့်ပါဟု တောင်းလျှောက်ကြသော်၊-
၁၂ အရှင် က လည်း၊ ငါအမှန် ဆိုသည်ကား၊ သင်
၁၃ တို့ကို ငါမသိဟုပြန်ပြောလေ၏။- သို့ဖြစ်၍၊ လူ
သားသည် ကြွလာအံ့သော နေ့ရက် အချိန်နာရီ
ကို သင်တို့သည် မသိသောကြောင့် စောင့်နေကြ
လော့။
၁၄ ဥပမာကား၊ လူတဦးသည် အခြားသောပြည်
သို့သွားမည်ဟုအကြံရှိလျက်၊ မိမိငယ်သားတို့
ကိုခေါ်၍ မိမိဥစ္စာများကိုအပ်ပေး၏။ သူတို့သည်
အသီးအသီးအစွမ်းသတ္တိရှိသည်အတိုင်း၊တဦး
၁၅ ၌ငွေအခွက်ငါးဆယ်၊-တဦး၌အခွက် နှစ်ဆယ်၊
တဦး၌ အခွက် တဆယ်ကို အပ်ပေးပြီးမှ ချက်
၁၆ ချင်းသွားလေ၏။-အခွက်ငါးဆယ်ကိုခံသောသူ
သည်သွား၍ကုန်သွယ်ခြင်းကိုပြုသဖြင့်၊အခြား
၁၇ သော အခွက်ငါးဆယ်ကိုအမြတ်ရလေ၏။- ထို
နည်းတူ၊ အခွက်နှစ်ဆယ်ကို ခံသော သူသည်
လည်း၊ အခြားသောအခွက်နှစ်ဆယ်ကိုအမြတ်
၁၈ ရလေ၏။-အခွက်တဆယ်ကို ခံသောသူမူကား၊
သွား၍ မြေ၌ တွင်းတူး ပြီးလျှင် အရှင်၏ ငွေကို
ဝှက်ထားလေ၏။
၁၉ ကာလကြာမြင့်ပြီးမှ ထိုငယ်သားတို့၏ အရှင်
၂၀ သည်လာ၍ သူတို့ကိုစာရင်းယူလေ၏။- အခွက်
ငါးဆယ်ကို ခံသော သူသည် ချည်း ကပ် ၍၊ အ
ခြားသော အခွက်ငါးဆယ် ကို ဆက်လျက်၊ သ
ခင်၊ ကိုယ်တော်သည် အကျွန်ုပ် ၌ အ ခွက် ငါး
ဆယ်ကို အပ်ပေး တော် မူ၏။ အခြား သော အ
ခွက် ငါးဆယ် ကို အကျွန်ုပ် အ မြတ် ရပါ ပြီ ဟု
၂၁ လျှောက်လေ၏။-အရှင်ကလည်း၊ သာဓု၊ သစ္စာ

ရှိသောငယ်သားကောင်း၊ သင်သည်အမှုငယ်
၌သစ္စာစောင့်လေပြီ။ များစွာသောအမှုအခွင့်ကို
သင်၌ ငါ အပ်ပေးမည်။ သင်၏သခင်နှင့် အတူ
၂၂ စည်းစိမ်ကို ဝင်စားလော့ဟု မိန့်တော်မူ၏။- အ
ခွက်နှစ်ဆယ်ကို ခံသော သူသည်လည်း ချဉ်း
ကပ်၍၊ သခင်၊ ကိုယ်တော်သည် အကျွန်ုပ်၌အ
ခွက် နှစ် ဆယ်ကို အပ် ပေး တော် မူ၏။ အခြား
သောအခွက်နှစ်ဆယ်ကို အကျွန်ုပ် အမြတ်ရပါ
၂၃ ပြီဟုလျှောက်လေသော်၊- အရှင်က၊ သာဓု၊ သစ္စာ
ရှိသောငယ်သားကောင်း၊ သင်သည်အမှုငယ်၌
သစ္စာစောင့်လေပြီ။ များစွာသော အမှုအခွင့်ကို
သင်၌ငါအပ်ပေးမည်။ သင်၏သခင်နှင့်အတူစည်း
စိမ်ကိုဝင်စားလော့ဟုမိန့်တော်မူ၏။
၂၄ အခွက် တ ဆယ် ကို ခံသော သူသည် လည်း
ချဉ်းကပ်၍၊ သခင်၊ ကိုယ်တော်သည် ခဲထည်း
သောသူဖြစ်သည်နှင့်၊ ကိုယ်မစိုက်မပျိုးသောအ
ရပ်၌ ရိတ်၍၊ ကိုယ်မဖြန့်မကြဲသော အရပ်၌ စု
၂၅ သိမ်းတတ်သည်ကို အကျွန်ုပ် သိ၍- ကြောက်
သောကြောင့်၊ အခြားသို့ သွား၍ ကိုယ်တော်၏
ငွေအခွက်တဆယ်ကိုမြေ၌ဝှက်ထားပါပြီ။ ယခု
၂၆ ကိုယ်တော်၏ဥစ္စာရှိပါသည်ဟုလျှောက်၏။-အ
ရှင်ကလည်း၊ ဆိုးညစ် ပျင်းရိသော ငယ်သား၊
ငါသည်ကိုယ်မစိုက်မပျိုးသောအရပ်၌ရိတ်၍၊
ကိုယ်မဖြန့်မကြဲသော အရပ်၌ စုသိမ်းသည်ကို
၂၇ သင်သိသည်မှန်လျှင်၊- ငွေကို ပွဲစားထက်သို့
အပ်ရမည်။ ထိုသို့အပ်လျှင်၊ ငါပြန်လာသောအ
၂၈ ခါငွေရင်းနှင့်အတိုးကိုရနိုင်၏။- ထို့ကြောင့်၊ အ
ခွက်တဆယ်ကိုထိုသူ၏လက်မှ[illegible]ကြ၊ အခွက်
၂၉ တရာရှိသောသူကိုပေးကြ။-အ[illegible]င်းမူကား၊
အကြင်သူသည်ရတတ်၏၊ ထိုသူ၌ကြွယ်ဝပြည့်
စုံခြင်းငှါပေးဦးမည်။ အကြင်သူသည်ဆင်းရဲ
၃၀ ၏၊ ထိုသူ၌ရှိသမျှကိုပင်နှုတ်လိမ့်မည်။-အသုံးမ
ရသောထိုငယ်သားကို၊ ငိုကြွေးခြင်း၊ အံသွားခဲ
ကြိတ်ခြင်းရှိရာ၊ ပြင်အရပ်မှောင်မိုက်ထဲသို့ နှင်
ထုတ်ချလိုက်ကြဟုစီရင်တော်မူ၏။
၃၁ လူသားသည်မိမိဘုန်းအသရေတော်ကို ဆောင်
လျက်၊ သန့်ရှင်းသောကောင်းကင်တမန်များအ
ခြံအရံတို့နှင့် တကွ ကြွလာ တော် မူ သော အခါ
၃၂ ဘုန်းရှိသော ပလ္လင် တော် ပေါ်မှာ ထိုင်၍၊- ရှေ့
တော်၌ လူမျိုးအပေါင်းတို့ကို စုဝေး စေသဖြင့်၊
သိုးထိန်းသည် သိုးနှင့် ဆိတ်တို့ကို တခြားစီခွဲ
ထားသကဲ့သို့၊ လူအပေါင်းတို့ကိုအသီးအခြားခွဲ

၃၃ ၍၊- သိုးတို့ကို လက်ျာ တော်ဘက်၊ ဆိတ်တို့ကို
လက်ဝဲတော်ဘက်၌ထားတော်မူလတ္တံ့။
၃၄ ထိုအခါ လက်ျာတော်ဘက်၌ ရှိသော သူတို့
အား မင်းကြီးက၊ ငါ့ခမည်းတော်ထံကောင်းကြီး
မင်္ဂလာကို ခံသောသူတို့၊ ကမ္ဘာဦးကပင်သင်တို့
အဖို့ ပြင်ဆင် သော နိုင်ငံကို လာ၍ အမွေခံကြ
၃၅ လော့။- အကြောင်းမူကား၊ ငါသည် မွတ်သိပ်
သောအခါ သင်တို့သည်ကျွေးကြ၏။ ငါသည်ရေ
ငတ်သောအခါ သင် တို့သည် သောက်စေကြ
၏။ ငါသည် ဧည့်သည် ဖြစ်သောအခါ သင်တို့
၃၆ သည် ဧည့်သည်ဝတ်ကို ပြုကြ၏။- ငါသည်အ
ဝတ်အချည်းစည်းရှိသောအခါ သင်တို့သည်အ
ဝတ်နှင့်ဖုံးအုပ်ကြ၏။ ငါသည် အနာရောဂါစွဲ
သောအခါ သင်တို့သည် ကြည့်ရှုပြုစုကြ၏။ ငါ
သည်ထောင်ထဲမှာနေရသောအခါ သင်တို့ထံ
၃၇ သို့ လာကြ၏ဟု မိန့်တော်မူလျှင်၊- ဖြောင့်
မတ်သောသူတို့က၊ သခင်၊ ကိုယ်တော်သည်မွတ်
သိပ်တော်မူသည်ကို အဘယ်အခါ၌ အကျွန်ုပ်
တို့သည် မြင်၍ ကိုယ်တော်ကို ကျွေးပါသ
နည်း၊ ရေငတ်တော်မူသည်ကို အဘယ်အခါ၌အ
ကျွန်ုပ်တို့သည် မြင်၍ ကိုယ်တော်ကို သောက်စေ
၃၈ ပေးပါသနည်း။- ဧည့်သည် ဖြစ်တော်မူသည်
ကိုအဘယ်အခါ၌အကျွန်ုပ်တို့သည်မြင်၍ ဧည့်
သည်ဝတ်ကိုကိုယ်တော်အားပြုပါသနည်း။ အ
ဝတ် အချည်းစည်းရှိတော်မူသည်ကို အဘယ်
အခါ၌အကျွန်ုပ်တို့သည်မြင်၍ကိုယ်တော်ကိုအ
၃၉ ဝတ်နှင့် ဖုံးအုပ်ပါသနည်း။- အနာ စွဲတော်မူ
သည်ကို ၎င်း၊ ထောင်ထဲမှာ နေတော်မူသည်ကို
၎င်း၊ အဘယ်အခါ၌ အကျွန်ုပ်တို့သည် မြင်၍အ
ထံတော်သို့ရောက်ပါသနည်းဟုဖြေ၍ လျှောက်
၄၀ ကြသော်၊- မင်းကြီးက၊ ငါအမှန်ဆိုသည်ကား
သင်တို့သည် ဤသူတည်းဟူသော ငါ့ ညီတို့တွင်
အငယ်ဆုံးသော သူတယောက်အားပြုကြသမျှ
တို့ကိုငါ့အားပြုကြပြီဟုဖြေ၍မိန့်တော်မူလတ္တံ့။
၄၁ ထို အခါ လက်ဝဲ တော် ဘက်၌ ရှိသော သူတို့
အား မင်းကြီးက၊ ကျိန်ခြင်းကို ခံရသောသူတို့
မာရ်နတ်နှင့် သူ၏ တမန်တို့ အဖို့ ပြင်ဆင်သော
၄၂ ထာဝရမီးထဲသို့ ငါ့ထံမှ သွားကြလော့။- အ
ကြောင်းမူကား၊ ငါသည် မွတ်သိပ် သော အခါ
သင်တို့သည်မကျွေး၊ ငါသည်ရေငတ်သောအခါ
၄၃ သင်တို့သည် သောက်စေ၍မပေး။- ငါသည် ဧည့်
သည် ဖြစ်သောအခါ သင်တို့ သည် ဧည့်သည်

ဝတ်ကိုမခြုံ၊ ငါသည် အဝတ်အရှည်းစည်းမရှိ
သောအခါသင်တို့သည် အဝတ်နှင့်မဖုံးမအုပ်။
ငါသည် အနာရောဂါစွဲသောအခါ၌၎င်း၊ ထောင်
ထဲမှာနေရသောအခါ၌၎င်း၊ သင်တို့သည်မကြည့်
၄၄ ရှုကြဟုမိန့်တော်မူလျှင်၊– ထိုသူတို့က၊ သ
ခင်၊ ကိုယ်တော်သည် မွတ်သိပ်တော်မူခြင်း၊ ရေ
ငတ်တော်မူခြင်း၊ ဧည့်သည်ဖြစ်တော်မူခြင်း၊ အ
ဝတ်အရှည်းစည်းမရှိတော်မူခြင်း၊ အနာစွဲတော်
မူခြင်း၊ ထောင်ထဲမှာ နေတော်မူခြင်းတို့ကို အ
ကျွန်ုပ်တို့သည် အဘယ်အခါ၌ မြင်၍၊ ကိုယ်
တော်ကို မပြုစုမလုပ်ကျွေးဘဲ နေပါသနည်းဟု
၄၅ ပြန်၍လျှောက်ကြသော်၊– မင်းကြီးက၊ ငါအမှန်
ဆိုသည်ကား၊ သင်တို့သည် ဤသူတို့တွင်အငယ်
ဆုံးသော သူတယောက် အား မပြုသမျှ တို့ကို ငါ
၄၆ အားမပြုကြပြီဟုပြန်၍ မိန့်တော်မူသတည်း။– ထို
သူတို့ သည် ထာဝရ အပြစ် ဒဏ် ခံရာ သို့ ၎င်း၊
ဖြောင့်မတ် သောသူတို့မူကား၊ ထာဝရအသက်
ရှင်ရာသို့၎င်းသွားရကြသတည်းဟုမိန့်တော်မူ၏။

၂၆

၁ ထိုဒေသနာတော်ရှိသမျှတို့ကို ယေရှုသည်အ
ဆုံးအစ ဟောတော်မူပြီးလျှင်၊ တပည့်တော်
၂ တို့အား၊– နှစ်ရက်လွန်မှ ပသခါပွဲနေ့ရောက်မည်
ကိုသင်တို့သိကြ၏၊ ထိုအခါလူသားကိုလက်ဝါး
ကပ်တိုင်မှာရိုက်သတ်စေခြင်းငှါ အပ်နှံကြလိမ့်
၃ မည်ဟုမိန့်တော်မူ၏။– ထိုအခါယဇ်ပုရောဟိတ်
အကြီး၊ ကျမ်းပြုဆရာတို့နှင့် လူတို့တွင် အကြီး
အကဲ ဖြစ်သော သူတို့သည်၊ ကယာဖ အမည်ရှိ
သော ယဇ်ပုရောဟိတ် မင်း၏ အိမ်ဦး၌ စည်း
၄ ဝေးကြပြီးလျှင်၊– ယေရှုကိုပရိယာယ်အားဖြင့်
၅ ဖမ်းဆီး၍ သတ်ဆဲ့သောငှါတိုင်ပင်ကြ၏။– ထို
သော်လည်း၊ လူများတို့သည် ရုန်းရင်းခတ်ဖြစ်
မည်ကို စိုးရိမ်၍၊ ပွဲနေ့တွင် မပြုနှင့်ဦးဟု ပြော
ဆိုကြ၏။
၆ ဗေသနိရွာတွင် ရှိမုန်အမည်ရှိသော လူနူ၏
၇ အိမ်၌ ယေရှုရှိတော်မူသည်ဖြစ်၍၊– မိန်းမတ
ယောက်သည်အဖိုးများစွာထိုက်သော ဆီမွှေး
ကျောက်ဖြူဘူးတလုံးကို အထံတော်သို့ယူခဲ့၍၊
စားပွဲနားမှာလျောင်းတော်မူသောကိုယ်တော်၏
၈ ခေါင်းပေါ်၌သွန်းလောင်းလေ၏။–တပည့်တော်
တို့သည်မြင်လျှင်၊ စေတနာမိတ်မရှိသည်ဖြစ်၍ အ
၉ ဘယ်ကြောင့် အကျိုးမဲ့ဆုံးစေသနည်း။– ထိုဆီ
မွှေးကိုအဖိုးများစွာနှင့်ရောင်း၍ ဆင်းရဲသော
သူတို့အားပေးစရာကောင်းသည်ဟု ဆိုကြ၏။–
၁၀ ယေရှုသည် သိတော်မူလျှင်၊ ထိုမိန်းမကိုအဘယ်
ကြောင့် နှောင့်ရှက် ကြသနည်း။ သူသည် ငါ၌
၁၁ ကောင်းသောအမှုကိုပြုပြီ။– ဆင်းရဲသောသူတို့
သည်သင်တို့၌အစဉ်ရှိကြ၏၊ ငါမူကား၊ သင်တို့
၁၂ ၌အစဉ်မရှိသည်မဟုတ်။– ဤဆီမွှေးကိုငါကိုယ်
အပေါ်၌သွန်းလောင်းသည်မှာ ငါ့အလောင်းကို
သင်းဂြိုဟ်မည်ဟုရှုပ်ဆင်ခြင်းငှါပြုသတည်း။–
၁၃ ငါအမှန်ဆိုသည်ကား၊ ဧဝံဂေလိတရားကို မြေ
တပြင်လုံး၌ဟောသောအရပ်ရပ်တို့၌၊ ဤမိန်း
မ၏ အောင်းမေ့စရာအလို့ငှါ သူပြုသော ဤအမှုကို
ပြောဆိုရကြလတ္တံ့ဟုမိန့်တော်မူ၏။
၁၄ ထိုအခါ တပည့်တော်တကျိပ် နှစ်ပါး၊ အဝင်
ဖြစ်သောယုဒရှကာရုတ်သည် ယဇ်ပုရောဟိတ်
၁၅ အကြီးတို့ထံသို့သွား၍၊– အကျွန်ုပ်သည်ယေရှု
ကို ကိုယ်တော်တို့လက်သို့အပ်လျှင် အဘယ်မျှ
လောက်ပေးပါမည်နည်းဟု လျှောက် သော်၊ ထို
သူတို့က၊ ငွေအကျပ်သုံးဆယ်ပေးမည်ဟုဝန်ခံ
၁၆ ကြ၏။– ထိုအခါမှစ၍ ကိုယ်တော်ကို အပ်ခြင်း
ငှါ အခွင့်သင့်သော အချိန်ကာလကို ရှာကြံ
လျက်နေ၏။
၁၇ အဇုမပွဲပထမနေ့၌ တပည့်တော်တို့သည် အ
ထံတော်သို့ချဉ်းကပ်၍၊ ကိုယ်တော်သည်ပသ
ခါပွဲကို စားတော်မူဖို့ရာ၊ အဘယ်အရပ်၌ အ
ကျွန်ုပ်တို့သည်ပြင်ဆင်စေခြင်းငှါအလိုရှိတော်မူ
၁၈ သနည်းဟုလျှောက်ကြသော်၊– ကိုယ်တော်
က၊ မြို့တွင် ဤမည်သောသူ၏ အိမ်သို့ သွားကြ၍
ဆရာမှာလိုက်သည် ကား၊ ငါ့အချိန်နီးပြီ၊ သင့်
အိမ်၌တပည့်တို့နှင့်တကွပသခါပွဲကို ငါခံမည်
၁၉ ဟု၊ ထိုသူကိုပြောကြလော့ဟုမိန့်တော်မူ၏။– တ
ပည့်တော်တို့သည်မှာထားတော်မူသည်အတိုင်းပြု
၍ပသခါပွဲကိုပြင်ဆင်ကြ၏။
၂၀ ညဦးယံအချိန်ရောက်မှတပည့်တော်တကျိပ်
နှစ်ပါးတို့နှင့်အတူ စားပွဲ၌ လျောင်းတော်မူ၏။–
၂၁ စား၍ နေကြစဉ်၊ ကိုယ်တော်က၊ ငါ အမှန်ဆို
သည်ကား၊ သင်တို့တွင်တယောက်သောသူ
သည်ငါ့ကိုအပ်နှံလိမ့်မည်ဟု မိန့်တော်မူလျှင်။–
၂၂ တပည့် တော် တို့ သည် အလွန် ဝမ်း နည်း၍၊
သခင်၊ အကျွန်ုပ် သောသူ၊ အသီးအသီး မေး
လျှောက်ကြ၏။–ကိုယ်တော်ကလည်း၊ ငါနှင့်အ
တူ ဗန်းတွင်လက်နှိုက်သောသူသည် ငါ့ကိုအပ်
၂၃ နှံလိမ့်မည်။–လူသားသည်ထိုင်းသောကျမ်းစာလာ



 

သည် သွားရမည်။ ထိုသော်လည်း၊ လူသားကို
အပ်နှံသောသူသည်အမင်္ဂလာရှိ၏။ ထိုသူသည်
ဖွားမြင်ခြင်းကိုမခံရလျှင်၊ အနေသာ၍ကောင်း
၂၅ သည်ဟု မိန့်တော်မူ၏။- ကိုယ်တော်ကို အပ်နှံ
မည်သူ၊ ယုဒရှကာရုတ်ကလည်း၊ အရှင်ဘုရား၊
အကျွန်ုပ်လောဟုမေးလျှောက်လျှင်၊သင်ဆိုသည့်
အတိုင်းမှန်သည်ဟုပြန်ပြောတော်မူ၏။
၂၆ ထိုအခါစားလျက်နေကြစဉ်တွင်၊ ယေရှုသည်
မုန့်ကိုယူ၍ ကျေးဇူးတော်ကို ချီးမွမ်းပြီးမှမုန့်
ကိုဖဲ့၍၊ ဤမုန့်ကား၊ငါ၏ကိုယ်ဖြစ်၏။ ယူ၍စား
ကြလော့ဟု မိန့်တော်မူလျက်၊ တပည့်တော်တို့
၂၇ အားပေးတော်မူ၏။- ခွက်ကိုလည်းယူ၍ ကျေး
ဇူးတော်ကိုချီး မွမ်းပြီးမှ သူတို့အားပေးတော်မူ
၂၈ ၍၊ သင်တို့ရှိသမျှသည် သောက်ကြလော့။- ဤ
ခွက်ကား၊ ပဋိညာဉ် တရား သစ်နှင့် ဆိုင်၍၊ လူ
များတို့၏ အပြစ်ကို လွှတ်စေခြင်းငှါ သွန်းသော
၂၉ ငါ၏အသွေးဖြစ်၏။- ငါဆိုသည်ကား၊ ဤစပျစ်
ရည်မျိုးအသစ်ကို ခမည်းတော်၏ နိုင်ငံ၌ သင်
တို့နှင့်အတူ ငါမသောက်မှီ နေ့တိုင်အောင် ယခု
၃၀ မှစ၍၊တဖန်ငါမသောက်ရဟုမိန့်တော်မူ၏။-ထို
နောက်၊ သီခြင်း ဆိုကြပြီးမှ သံလွင် တောင်သို့
ထွက်သွားကြ၏။
၃၁ ထိုအခါ ယေရှုကလည်း၊ ကျမ်းစာ လာသည်
ကား၊ သိုးထိန်းကိုငါရိုက်သတ်၍ သိုးတို့သည်ကွဲ
လွင့်ရကြလိမ့်မည်ဟု ရေးထားသည်နှင့်အညီ၊
ယနေ့ ညည့်တွင် သင်တို့ရှိသမျှသည် ငါကြောင့်
၃၂ စိတ်ပျက်ကြလိမ့်မည်။-သို့သော်လည်း၊ငါသည်
ထမြောက် ပြီးမှ သင် တို့ရှေ့၊ ဂါလိလဲ ပြည်သို့
၃၃ သွားမည်ဟု မိန့်တော်မူသော်၊- ပေတရုက၊ ဤ
သူရှိသမျှတို့သည်ကိုယ်တော်ကြောင့်စိတ်ပျက်
ကြသော်လည်း၊ အကျွန်ုပ်သည် စိတ်အလျှင်းမ
၃၄ ပျက်ပါဟုလျှောက်လေ၏။- ယေရှုကလည်း၊ငါ
အမှန် ဆိုသည်ကား၊ ယနေ့ညည့်တွင် ကြက်မ
တွန်မှီ သင်သည် သုံးကြိမ်မြောက်အောင် ငါကို
၃၅ ငြင်းပယ်လိမ့်မည်ဟုမိန့်တော်မူလျှင်၊- ပေတရု
က၊ ကိုယ်တော်နှင့်တကွသေရသော်လည်း၊ အ
ကျွန်ုပ်သည် ကိုယ်တော်ကို မငြင်း မပယ်ပါဟု
လျှောက်ပြန်၏။ တပည့်တော်အပေါင်းတို့သည်
လည်းထိုနည်းတူလျှောက်ကြ၏။
၃၆ ထိုအခါယေရှုသည် သူတို့နှင့်အတူဂေသရှေ
မန်အရပ်သို့ရောက်တော်မူလျှင်၊ ငါသည်ထိုအ
ရပ်သို့သွား၍ ဆုတောင်း စဉ်တွင် ဤ အရပ်၌
ထိုင်နေကြလော့ဟု၊ တပည့် တော်တို့အား မိန့်
၃၇ တော်မူပြီးမှ၊- ပေတရု နှင့် ဇေဗေဒဲ၏ သား နှစ်
ယောက်တို့ကိုခေါ်သွား၍၊ နှစ်လုံးမသာ၊စိတ်ပူ
၃၈ ပန်ခြင်းသို့ရောက်တော်မူ၏။-ထိုအခါယေရှုက၊
ငါသည်သေလောက်အောင် စိတ်နှစ်လုံးအလွန်
ညှိုးငယ်ခြင်းရှိ၏။ ဤအရပ်၌ ငါနှင့်အတူစောင့်
၍နေကြလော့ဟု၊ တပည့်တော် သုံးယောက်တို့
၃၉ အားမိန့်တော်မူ၍၊- ထိုမှအနည်းငယ် လွန်ပြန်
လျှင်ပြပ်ဝပ်၍၊ အကျွန်ုပ်အဖ၊ ဤခွက်သည် အ
ကျွန်ုပ်ကို လွန် သွား နိုင် လျှင် လွန် သွား ပါ စေ
သော။ သို့သော်လည်း၊ အကျွန်ုပ် အလိုရှိသည်
အတိုင်းမဖြစ်ပါစေနှင့်။ကိုယ်တော်အလိုရှိသည့်
အတိုင်း ဖြစ်ပါစေသောဟု ဆု တောင်း တော်မူ
၄၀ ၏၊- တပည့်တော်တို့ရှိရာသို့ပြန်၍၊ သူတို့သည်
အိပ်ပျော်လျက်နေကြသည်ကို တွေ့တော်မူလျှင်၊
သင်တို့သည် တနာရီခန့်မျှ ငါနှင့်အတူ စောင့်၍
၄၁ နေခြင်းငှါ ဤသို့ မစွမ်း နိုင် သ လော။- စုံ စမ်း
နှောင့်ရှက်ခြင်းနှင့် ကင်းလွတ်မည် အကြောင်း၊
ဆုတောင်းလျက်စောင့်နေကြလော့။ စိတ်ဝိညာဉ်
ကား စေတနာရှိပြားသော်လည်း၊ ကိုယ်မူကား
အားနည်းသည်ဟု၊ ပေတရုအား မိန့်တော်မူပြီး
၄၂ မှ၊- တဖန်သွား၍၊အကျွန်ုပ်အဖ၊ ဤခွက်ကိုအ
ကျွန်ုပ်မသောက်ဘဲလွန်၍ မသွားရလျှင်၊ ကိုယ်
တော်အလိုရှိသည်အတိုင်းဖြစ်ပါစေသောဟုဆု
၄၃ တောင်းပြန်၏၊-ထိုနောက်၊တပည့်တော်တို့ရှိရာ
သို့လာ၍၊ သူတို့သည်မျက်စိလေးထံသဖြင့် တ
ဖန် အိပ်ပျော်လျက် နေကြသည်ကို တွေ့တော်မူ
၄၄ လျှင်၊-သူတို့ကိုထားခဲ့၍တဖန်သွားပြီးလျှင်ရှေ့
မြွက်ဆိုသည်နည်းတူ၊ သုံးကြိမ်မြောက်အောင်
၄၅ ဆုတောင်းတော်မူ၏။- ထိုနောက်၊တပည့်တော်
တို့ရှိရာသို့ ပြန်လာလျှင်၊ ယခု အိပ်ပျော်၍ ငြိမ်
ဝပ်စွာနေကြလော့။ လူသားကို ဆိုးသောသူတို့
လက်သို့ အပ်နှံရသော အချိန် ရောက်လာပြီ။-
၄၆ ထကြ၊ ငါတို့သည်သွားကြကုန်အံ့။ ငါကိုအပ်နှံ
သောသူသည်ရောက်လာပြီဟုမိန့်တော်မူ၏။
၄၇ ထိုသို့မိန့်တော်မူစဉ်တွင် ပင်တပည့်တော်တ
ကျိပ်နှစ်ပါးအဝင်ဖြစ်သော ယုဒရှကာရုတ်လာ
၏။ ယဇ်ပုရောဟိတ်အကြီးတို့နှင့် လူတို့တွင်အ
ကြီးအကဲဖြစ်သောသူများစေလွှတ်သောလူအစု
အဝေး အပေါင်းတို့သည် ထားနှင့် ဒုတ်များကို
၄၈ ကိုင်လျက်ပါကြ၏။-ကိုယ်တော်ကိုအပ်နှံသော
သူက၊ ငါနမ်းသောသူသည်ယေရှုပင်ဖြစ်၏။ သူ

ကိုဖမ်းကြဟု၊ထိုသူတို့အား အမှတ်ပေးခဲ့သည်
၄၉ အတိုင်း၊– ကိုယ်တော်ရင်းသို့ ချက်ချင်း ချဉ်း
ကပ်၍၊အရှင်ဘုရား၊မင်္ဂလာရှိပါစေသောဟု ဆို
၅၀ လျက်နမ်းလေ၏။– ယေရှုကလည်း၊ အဆွေ၊ အ
ဘယ်အခြင်းရှိ၍လာသနည်းဟုမေးတော်မူပြီး
မှ၊ ထိုသူများတို့သည် ထ၍ ကိုယ်တော်ကိုဆွဲ
၅၁ ကိုင်ဖမ်းဆီးကြ၏။– ထိုအခါယေရှုနှင့်ပါသော
သူတယောက်သည် လက်ကိုဆန့်၍ ထားကို ဆွဲ
ထုတ်ပြီးလျှင်၊ ယဇ်ပုရောဟိတ်မင်း၏ ကျွန်တ
ယောက်ကို ခုတ်သဖြင့် နားရွက် ပြတ်လေ၏။–
၅၂ ယေရှုကလည်း၊ သင့် ထားကို သူနေရာ၌ ပြန်
ထားလော့။ထားကိုကိုင်သောသူရှိသမျှတို့သည်
၅၃ ထားဖြင့်ဆုံးခြင်းသို့ရောက်ကြလိမ့်မည်။– ယခု
ပင်ငါအဘကိုငါတောင်းနိုင်သည်ကိုရင်၊တောင်း
လျှင် ကောင်းကင်တမန် တဆယ့် နှစ်တပ် မက
ငါ့ထံသို့စေလွှတ်တော်မူမည်ကိုရင် သင်သည် မ
၅၄ ထင်သလော။– သို့ဖြစ်လျှင်၊ ဤသို့သောအမှုအ
ရာတို့သည် ဖြစ်ရမည်ဟူသော ကျမ်းစာ ချက်
သည်အဘယ်သို့ ပြည့်စုံအံ့နည်းဟု မိန့်တော်မူ
၅၅ ၏။– ထိုအခါယေရှုက၊ သင်တို့သည် ထားမြကို
ဖမ်းသကဲ့သို့ ငါ့ကိုဖမ်းအံ့ သောငှါ ထားနှင့်ဒုတ်
များကို ထက်စွဲလျက်လာကြသည်တကား။ ငါ
သည် ဗိမာန်တော်၌ နေ့တိုင်းဆုံးမဩဝါဒပေး
လျက်သင်တို့အလယ်၌ ထိုင်နေစဉ်အခါ၊ သင်
၅၆ တို့သည် ငါ့ကို မဖမ်းဆီးကြ။– ထိုအကြောင်းအ
ရာမူကား၊ အနာဂတ္တိ ကျမ်းစာ ပြည့်စုံ မည် အ
ကြောင်းတည်းဟု၊ လူအစုအဝေးတို့ကိုမိန့်တော်
မူ၏။ ထိုအခါ တပည့်တော် အပေါင်း တို့သည်
ကိုယ်တော်ကိုစွန့်ပြစ်၍ပြေးကြ၏။
၅၇ ကိုယ် တော် ကို ဖမ်း ဆီး သော သူ တို့ သည်၊
ကျမ်းပြုဆရာ၊လူအကြီးအကဲများစည်းဝေးရာ၊
ယဇ်ပုရောဟိတ် မင်း ကယာဖ ထံ သို့ ဆောင်
၅၈ သွားကြ၏။– ပေတရုသည်လည်း၊ ယဇ်ပုရော
ဟိတ်မင်း၏အိမ်ဦးတိုင်အောင်၊ ကိုယ်တော်နှင့်
ဝေးစွာလိုက်၍ အတွင်းသို့ဝင်ပြီးလျှင်၊ ထိုအမှု
၏အဆုံးကို သိမြင်ခြင်းငှါမင်းလုလင်တို့နှင့် အ
၅၉ တူထိုင်နေ၏။–ယဇ်ပုရောဟိတ်အကြီးတို့နှင့်လူ
အကြီးအကဲ၊ လွှတ်အရာရှိ အပေါင်း တို့သည်၊
ယေရှု ကို သတ် ရမည် အကြောင်း မမှန် သော
၆၀ သက်သေကို ရှာသော်လည်း မတွေ့ကြ။– မမှန်
သောသက်သေခံ အများလာသော်လည်း သက်
သေကိုမတွေ့ကြ။ နောက်ဆုံး၌ မမှန်သောသက်
၆၁ သေခံနှစ်ယောက်တို့သည်လာ၍၊– ဤသူက၊ငါ
သည်ဘုရားသခင်၏ ဗိမာန်တော်ကို ဖြိုဖျက်၍
သုံးရက်အတွင်းတွင်တည်ဆောက်နိုင်သည်ဟု
၆၂ ပြောပါသည်ဟု သက်သေခံကြ၏။– ယဇ်ပုရော
ဟိတ်မင်းသည်ထ၍၊ သင်သည်တခွန်းမျှပြန်၍
မပြောသလော။ ဤသူတို့သည်အဘယ်သို့သက်
၆၃ သေခံသနည်းဟု ဆိုလျှင်၊– ယေရှုသည် တိတ်
ဆိတ် စွာ နေ တော် မူ၏။ ယဇ်ပုရော ဟိတ် မင်း
ကလည်း၊ သင်သည် ခရစ်တော်တည်းဟူသော
ဘုရားသခင်၏သားတော်မှန်သဉ် မမှန်သည်ကို
ငါတို့အား ပြောစေခြင်းငှါ၊ အသက် ရှင်တော်မူ
သောဘုရားသခင်ကို ငါတိုင်တည်၍သင့်ကိုကျိန်
၆၄ ဆိုစေ၏ဟုဆိုလျှင်၊– ယေရှုက၊ သင်ဆိုသည်အ
တိုင်းမှန်၏။ ထိုမျှမက၊ ငါဆိုသည်ကား၊ နောင်
ကာလ၌ လူသားသည် တန်ခိုးတော် ၏ လက်ျာ
ဘက်၌ ထိုင်လျက်၊ မိုဃ်းတိမ်ကိုစီး၍ ကြွလာ
သည်ကို သင်တို့မြင်ရကြလတံ့ဟုမိန့်တော်မူ၏။–
၆၅ ထိုအခါ ယဇ်ပုရောဟိတ် မင်းသည် မိမိအဝတ်
ကိုဆုတ်လျက်၊ ဤသူသည်ဘုရားကိုလွန်ကျူး၍
ပြောပြီ။ အဘယ်သက်သေကို လိုသေးသနည်း။
ဘုရားကိုလွန်ကျူး၍ ပြောသောစကားကိုယခု
၆၆ ပင် သင်တို့ကြားရပြီ။– အဘယ်သို့ ထင်မှတ်ကြ
သနည်းဟုမေးမြန်းလျှင်၊ ထိုသူတို့က၊ဤသူသည်
၆၇ အသေခံထိုက်ပေ၏ဟုပြန်၍ဗိရင်ကြ၏။– ထိုအ
ခါ မျက်နှာ တော်ကို တံတွေး နှင့် ထွေး ကြ၏၊
၆၈ လက်သီးနှင့် ထိုးကြ၏။– အချို့တို့သည်လည်း၊
ပါးတော်ကိုလက်နှင့်ပုတ်၍၊အချင်းခရစ်တော်၊
ကိုယ်တော်ကို အဘယ်သူ ပုတ်သည် ကို ပရော
ဖက်ပြု၍ ဟောတော်မူပါဟုဆိုကြ၏။
၆၉ ပေတရုသည်ပြင်မှာအိမ်ဦး၌ထိုင်နေစဉ်၊အ
စေအပါမိန်းမတယောက်သည် သူ့ရှိရာသို့ ထာ၍၊
သင်သည်လည်း ဂါလိလဲလူ ယေရှုနှင့် ပေါင်း
၇၀ ဖော်သောသူဖြစ်သည်ဟုဆိုလျှင်၊– ပေတရုက၊
သင်ပြောသောအရာကို ငါမသိဟု၊ လူအပေါင်း
၇၁ တို့ရှေ့၌ငြင်းခုံလေ၏။– ထိုနောက်၊ပေတရုသည်
အိမ်ဦးရှေ့သို့ ထွက်ပြီးမှအခြားသော မိန်းမသည်
သူ့ကိုမြင်၍ထိုအရပ်၌ ရှိသောသူတို့အား၊ ဤသူ
လည်း နာဇရက်မြို့သားယေရှု နှင့် ပေါင်းဖော်
၇၂ သောသူဖြစ်သည်ဟုဆိုလျှင်၊– ပေတရုက၊ထိုသူ
ကိုငါမသိဟု ကျိန်ဆိုလျက်တဖန်ငြင်းခုံပြန်၏။–
၇၃ ထိုနောက်မြားမကြာ၊ထိုအရပ်၌ရပ်နေသောသူ
တို့သည် ပေတရုအနီးသို့လာ၍၊ အကယ်စင်စစ်

သင်သည်လည်း၊ထိုသူတို့အဝင်ဖြစ်၏။သင့်စကား
သည် သင့်အကြောင်းကိုထင်ရှားစေ၏ဟုဆိုကြ
၇၄ လျှင်၊-ပေတရုက၊ထိုသူကိုငါမသိဟုမိန်းခြန်ပြု၍
ကျိန်ဆို၏။ ထိုခဏချင်းတွင် ကြက်တွန်လေ၏။-
၇၅ ယေရှုက၊ ကြက် မတွန် မှီ သင် သည် သုံးကြိမ်
မြောက် အောင်၊ ငါ့ကို ငြင်းပယ်လိမ့်မည်ဟု မိန့်
တော်မူသော စကားကို ပေတရုသည်သတိရ၍
ဖြင့်၊ပြင်သို့ထွက်၍ ပြင်းစွာငိုကြွေးလေ၏။

၂၇

၁ နံနက် အချိန် ရောက်လျှင်၊ ယဇ်ပရောဟိတ်
အကြီးတို့နှင့် လူတို့တွင် အကြီးအကဲ ဖြစ်သော
သူအပေါင်းတို့သည် ယေရှုကို သတ်အံ့သောငှါ
၂ တိုင်ပင်၍၊- ကိုယ်တော်ကိုချည်နှောင်ပြီးလျှင်၊
မြို့ဝန်မင်းပုန္တိပိလတ်ထံသို့ ဆောင်သွား၍ အပ်
လိုက်ကြ၏။

၃ ထိုအခါကိုယ်တော်ကိုအပ်နှံသောယုဒရှကာ
ရုတ်သည်ကိုယ်တော်၌သေပြစ်ကိုစီရင်ကြသည်
ကိုသိမြင်လျှင်၊နောင်တရ၍ငွေသုံးဆယ်ကိုယဇ်
ပရောဟိတ်အကြီး၊ လူအကြီးအကဲတို့၌ပြန်ပေး
၄ ၍၊-အကျွန်ုပ်ပြစ်မှားပါပြီ။အပြစ်မရှိသောသူ၏
အသွေးကို အပ် မိပါ ပြီ ဟု ဆို၏။ ထိုသူ တို့ က
လည်း၊ငါတို့နှင့်အဘယ်သို့ ဆိုင်သနည်း။ ကိုယ်
၅ အမှုကို ကိုယ်ကြည့်လော့ ဟု ဆိုကြသော်၊- သူ
သည်ထိုငွေကိုဗိမာန်တော်၌ပြစ်ချခဲ့၍ အခြား
သို့သွားပြီးလျှင်၊ ထည်ကြိုးတပ်၍သေလေ၏။-
၆ ယဇ်ပရောဟိတ်အကြီးတို့သည် ထိုငွေကိုယူ၍
အသွေး၏ အဘိုးဖြစ်၏၊ ဘဏ္ဍာတော်၌ မသွင်း
၇ အပ်ဟုပြောဆို- တိုင်ပင်ပြီးမှ၊အိုးထိန်းသမား
၏ မြေအကွက်ကို တပါး အမျိုးသားတို့၏ သင်း
၈ ချိုင်း ဖြစ်စေခြင်းငှါ ထိုငွေနှင့် ဝယ်ကြ၏။- ထိုအ
ကြောင်းကိုအစွဲပြု၍၊ ယခုတိုင်အောင်ထိုမြေအ
၉ ကွက်ကိုသွေးမြေဟု ခေါ်တွင်ကြ၏။- ပရောဖက်
ယေရမိဟောသည်ကား၊ဣသရေလလူတို့သည်
အဘိုးပြတ်သောသူ၏ကိုယ်အိုး၊ငွေသုံးဆယ်ကို
သူတို့သည်ယူ၍၊ ထာဝရဘုရားသည် ငါ့ကို မှာ
၁၀ ထားတော်မူသည်အတိုင်း၊- အိုးထိန်းသမား၏
မြေအကွက်ကို ဝယ်ကြ၏ဟူသော စကားသည်
ထိုအခါပြည့်စုံခြင်းသို့ရောက်လေ၏။

၁၁ ယေရှုသည် မြို့ဝန်မင်းရှေ့သို့ ရောက် တော်မူ
သည်ရှိသော်၊ မြို့ဝန်မင်းက၊ သင်သည်ယုဒရှင်
ဘုရင်မှန်သလောဟု မေးလျှင်၊ ယေရှုက၊ မင်း
ကြီးမေးသည်အတိုင်း မှန်သည်ဟု မိန့် တော်မူ
၁၂ ၏။-ယဇ်ပရောဟိတ်အကြီးတို့နှင့် လူအကြီးအ
ကဲတို့သည်အပြစ်တင်ကြသော်၊တခွန်းကိုမျှပြန်
၁၃ တော်မမူ။-ပိလတ်မင်းကလည်း၊ သင့်တစ်ထံ၌
အဘယ်မျှလောက်သက်သေခံကြသည်ကိုသင်
၁၄ မကြားသလောဟုပြောဆိုသော်လည်း၊-စကား
တခွန်း ကိုမျှ ပြန် တော်မမူသည်ကို မြို့ဝန်မင်း
သည်အလွန်အံ့ဩလေ၏။

၁၅ ထိုပွဲ၌ မြို့ဝန်မင်းသည် အကျဉ်းထားသော
သူတို့တွင်၊လူများတို့အလိုရှိသောသူတယောက်
၁၆ ယောက်ကိုလွှတ်မြဲထုံးစံရှိ၏။-ထိုအခါအကျဉ်း
ထား သော သူတို့ တွင်၊ ဗာရဗ္ဗ အ မည် ရှိ သော
၁၇ ကျော် စော သော သူ တ ယောက် ရှိ၏။- လူ များ
စည်းဝေးကြသည်ရှိသော်၊ပိလတ်မင်းက၊ သင်
တို့သည်အဘယ်သူကိုလွှတ်စေချင်သနည်း။ ဗာ
ရဗ္ဗကို လွှတ်စေချင်သလော။ ခရစ်ဟု ခေါ်ဝေါ်
သော ယေရှုကို လွှတ်စေချင်သလောဟု လူများ
၁၈ တို့အားမေးလေ၏။- အဘယ်ကြောင့်ဤသို့မေး
သနည်းဟူမူကား၊ ထိုသူတို့သည် မနာလိုသော
စိတ်နှင့်ယေရှုကိုအပ်နှံကြောင်းကို ပိလတ်မင်း
၁၉ သိ၏။- ထိုမှတပါး၊တရားပလ္လင်ပေါ်မှာထိုင်စဉ်
တွင်၊ မိမိခင်ပွန်းသည် လုလင်တယောက်ကိုစေ
လွှတ်၍၊ထိုဖြောင့်မတ်သောသူကိုအဘယ်သို့မျှ
မပြုပါနှင့်။ ယနေ့ပင်ကျွန်မသည် ထိုသူကြောင့်
၂၀ အိပ်မက်၌ပြင်းစွာခံရပါပြီဟုမှာလိုက်၏။-လူအ
စုအဝေးတို့သည်၊ဗာရဗ္ဗကိုတောင်း၍ယေရှုကို
သတ်စေခြင်းငှါ၊ ယဇ်ပရောဟိတ်အကြီးတို့နှင့်
လူအကြီး အကဲ တို့သည် လူများကို တိုက်တွန်း
၂၁ သွေးဆောင်ကြ၏။-ထိုကြောင့်၊ မြို့ဝန်မင်းသည်
ဤသူနှစ်ယောက်တို့တွင်၊ သင်တို့သည်အဘယ်
သူကို လွှတ်စေချင်သနည်းဟု၊ လူများကို တဖန်
မေးသောအခါ၊ ဗာရဗ္ဗကို လွှတ်စေချင်ပါသည်
၂၂ ဟု လျှောက်ကြ၏။- ပိလတ် မင်းက လည်း၊ သို့
ဖြစ်လျှင်၊ ခရစ်ဟု ခေါ်ဝေါ်သော ယေရှုကိုအ
ဘယ်သို့ ပြုရမည်နည်းဟု မေးပြန်သော်၊ ထိုသူ
အပေါင်းတို့က၊ သူသည် လက်ဝါးကပ်တိုင်မှာ
၂၃ ရိုက်ထားခြင်းကိုခံပါလေစေဟုဆိုကြ၏။-မြို့ဝန်
မင်းကလည်း၊ အဘယ်ကြောင့်နည်း။ အဘယ်
အပြစ်ကို ပြုဘိသနည်းဟုမေးလျှင်၊ ထိုလူသည်
လက်ဝါးကပ်တိုင်မှာရိုက်ထားခြင်းကိုခံပါလေ
၂၄ စေဟု၊လူများတို့သည်သာ၍ထစ်ကြ၏။- ပိလတ်
မင်းသည်မိမိမနိုင်၊လူများသာ၍ရုန်းရင်းခတ်မှာ
ပြုကြသည်ကို မြင်လျှင်၊ ရေကိုယူ၍ လူများရှေ့

ရှေ့မိမိလက်ကိုဆေးလျှော်၊ ဤဖြောင့်မတ်သော
သူ၏အသွေးနှင့် ငါသည် ကင်းရှင်း၏၊ ဤအမှု
၂၅ ကို သင်တို့ ကြည့် ကြလော့ဟု ဆို၏။— ထိုလူအ
ပေါင်းတို့က၊ ထိုသူ၏အသွေးသည်ငါတို့၏ ခေါင်း
ပေါ်၌၎င်း၊သားမြေးတို့၏ခေါင်းပေါ်၌၎င်းတည်
၂၆ ရှိပါစေဟု ပြန်ပြော ကြ၏။— ဗိုလ်မင်း သည်
လည်း ဗာရဗ္ဗကို လူများတို့အား လွှတ်ပေး၏၊
ယေရှုကိုကားရိုက်ပြီးလျှင်၊ လက်ဝါးကပ်တိုင်
မှာတင်စေခြင်းငှါအပ်လိုက်လေ၏။
၂၇ ထိုအခါ မြို့ဝန်မင်း၏စစ်သူရဲတို့သည် ယေရှု
ကို အိမ်တော်ဦးသို့ ဆောင်သွား၍၊ စစ်သူရဲ တ
၂၈ တပ်လုံးကို အထံတော်၌စုရုံးစေပြီးမှ၊— အဝတ်
တော်ကိုချွတ်၍နီသောဝတ်လုံကို ခြုံစေကြ၏။—
၂၉ ဆူးပင်နှင့် ရက်သော ဦးရစ်ကို ခေါင်း တော်၌
တင်ကြ၏၊ ကျူတလုံးကိုလည်း လက်ျာ လက်
တော် နှင့် ကိုင် စေ ပြီး လျှင်၊ ရှေ့ တော် မှာ ဒူး
ထောက်လျက်၊ယုဒရှင်ဘုရင်၊ ကိုယ်တော်သည်
ချမ်းသာရှိစေသတည်းဟု၍ ကိုယ်တော်ကို ပြက်
၃၀ ရယ်ပြုကြ၏။— ကိုယ်တော်ကိုတံတွေးနှင့် ထွေး
ကြ၏၊ ကျူလုံးကိုယူ၍ ခေါင်းတော်ကို ရိုက်ကြ
၃၁ ၏။— ထိုသို့ ကိုယ် တော် ကို ပြက် ရယ် ပြု သည်
နောက်၊ မင်းဝတ်လုံကို ချွတ်၍ အဝတ်တော်ကို
ဝတ်ပြန်စေပြီးလျှင်၊ လက်ဝါးကပ်တိုင်မှာရိုက်
ထားခြင်းငှါ ထုတ်သွားကြ၏။
၃၂ သွားကြစဉ်တွင် ရှိမုန်အမည်ရှိသော ကုရေ
နေမြို့သားတယောက်ကိုတွေ့လျှင်၊အနိုင်ပြု၍
လက် ဝါး ကပ် တိုင် တော် ကို ထမ်း စေ ကြ ၏။—
၃၃ ဦးခေါင်းခွံအရပ်ဟုဆိုလိုသော ဂေါလဂေါသ
အမည် တွင်သော အရပ်သို့ ရောက် ကြသော်၊—
၃၄ ဆေး ခါး နှင့် ရော သော ပုံးရည် ကို ကိုယ် တော်
အားသောက်စိမ့်သောငှါ ပေးလျှင်၊ မြည်းစမ်း
၃၅ တော်မူ၍ မသောက် ချင်ဘဲ နေ လေ ၏။— ကိုယ်
တော် ကို လက်ဝါးကပ် တိုင် မှာ ရိုက် ထား ပြီး
လျှင်၊ အဝတ်တော်တို့ကို စာရေးတံချ၍ ဝေဖန်
၃၆ ကြ၏။—ထိုအရပ်၌လည်းထိုင်လျက်စောင့်နေကြ
၃၇ ၏။— အပြစ်ပေါ်ပြသောကမ္ဗည်းလိပ်စာချွန်ဟူ
စာသား၊ဤသူသည်ယုဒရှင်ဘုရင်ယေရှုပေတည်း
ဟုရေး၍၊ ခေါင်းတော်ပေါ်မှာ တပ်သတည်း။—
၃၈ ထိုအခါကိုယ်တော်နှင့်တကွဓားပြနှစ်ယောက်
တို့ကို လက်ျာတော်ဘက်၌ တယောက်၊ လက်ဝဲ
တော်ဘက်၌ တယောက်၊ လက်ဝါးကပ်တိုင်မှာ
ရိုက်ထားကြ၏။

၃၉ ထိုမှာ သွားလာသောသူတို့ကလည်း ဗိ
မာန်တော်ကို ဖြိုဖျက်၍ သုံးရက်အတွင်း တွင်တည်
ဆောက်ပြန်သောသူ၊ ကိုယ်ကိုကိုယ်ကယ်တင်
၄၀ လော့။ ဘုရားသခင်၏သားတော်မှန်လျှင်၊ လက်
ဝါးကပ်တိုင်မှ ဆင်းလော့ဟု၊ မိမိတို့ ခေါင်းကို
၄၁ ညိတ်၍ ကဲ့ရဲ့သောစကားနှင့်ပြောဆိုကြ၏။— ထို
နည်း တူ၊ ယဇ်ပုရောဟိတ် အကြီး၊ ကျမ်းပြု
ဆရာ၊လူအကြီးအကဲတို့က၊ဤသူသည်သူတပါး
၄၂ တို့ကိုကယ်တင်တတ်၏။— ကိုယ်ကိုမကယ်တင်
နိုင်ပါတကား။ ဣသရေလ ရှင်ဘုရင်မှန်လျှင်၊
လက်ဝါးကပ်တိုင်မှ ယခုဆင်းပါလေစေ။ ဆင်း
၄၃ လျှင်ငါတို့ယုံကြည်မည်။— သူသည်ဘုရားသခင်
ကိုကိုးစားပြီ။ငါသည်ဘုရားသခင်၏သားဖြစ်၏
ဟုဆိုပြီ။သို့ဖြစ်၍၊ဘုရားသခင်သည် သူ၌အလို
တော်ရှိလျှင်၊ ယခုပင် ကယ် တင် တော်မူပါလေ
၄၄ စေဟု၊ပြက်ရယ်ပြု၍ပြောဆိုကြ၏။—ထိုနည်းတူ၊
ကိုယ်တော်နှင့်တကွ လက်ဝါးကပ်တိုင်မှာရိုက်
ထားသော ဓားပြ တို့သည်လည်း ကဲ့ရဲ့ အပြစ်
တင်ကြ၏။
၄၅ မွန်းတည့်အချိန်မှစ၍သုံးချက်တီးအချိန်တိုင်
အောင်၊ မြေတပြင်လုံး၌ မှောင်မိုက် အတိ ဖြစ်
၄၆ လေ၏။— သုံးချက်တီး အချိန်၌ ယေရှုက၊ ဧလိ၊
ဧလိ၊ လာမာရှာဗခသာနိဟုကြီးသောအသံနှင့်
ကြွေးကြော်တော်မူ၏။ အနက် ကား၊ အကျွန်ုပ်
ဘုရား၊ အကျွန်ုပ် ဘုရား၊ အဘယ် ကြောင့် အ
ကျွန်ုပ်ကို စွန့် ပစ် တော် မူသ နည်း ဟု ဆိုလိုသ
၄၇ တည်း။—ထိုအရပ်၌ရပ်နေသောသူအချို့တို့သည်
ကြားလျှင်၊ သူသည်ဧလိယကိုခေါ်သည်ဟု ဆို
၄၈ ကြ၏။— လူတယောက်သည်ချက်ချင်းပြေး၍ ရေ
မှိုတထွေးကို ပုံးရည်နှင့် ပြည့်စေပြီးလျှင်၊ ကျူ
လုံးဖျား၌ တပ်၍ ကိုယ်တော်အား သောက်စိမ့်
၄၉ သောငှါပေးလေ၏။— ကြွင်းသောသူတို့က၊ ရှိစေ
တော့၊ ဧလိယသည်သူ့ကိုကယ်တင်ခြင်းငှါ လာ
မည် မလာ မည်ကို ကြည့် ကြကုန်အံ့ဟု ဆိုကြ
၅၀ ၏။—ယေရှုသည်ကြီးသောအသံနှင့် တဖန်ကြွေး
ကြော်ပြီးလျှင်အသက်တော်ကိုလွှတ်တော်မူ၏။
၅၁ ထိုအခါဗိမာန်တော်၏ ကုလားကာသည်အ
ထက်စွန်းမှအောက်စွန်းတိုင်အောင်စုတ်ကွဲလေ
၏။မြေကြီးလှုပ်လေ၏။ ကျောက်များတို့သည်ကွဲ
၅၂ ပြားကြ၏။—သင်္ချိုင်းတွင်းတို့သည်ပွင့်လှစ်သ
ဖြင့်၊ကျိန်းစက်လျက်ရှိသောသန့်ရှင်းသူတို့၏အ
၅၃ လောင်းများစွာတို့သည် ထကြ၍— ကိုယ်တော်

အခြောက်တော်မူသည်နောက်၊ ထို သူတို့သည်
သင်းချိုင်းတွင်းမှ ထွက်၍ သန့်ရှင်းသော မြို့ထဲ
သို့ဝင်ပြီးလျှင်၊ လူများစွာတို့အား ထင်ရှားကြ
၅၄ ၏။- ယေရှုကိုစောင့်သောတပ်မှူးမှစ၍ စစ်သူရဲ
များတို့သည်မြေကြီးလှုပ်ခြင်းစသည်တို့ကိုမြင်
လျှင်၊ အလွန် ထိတ် လန့်၍၊ စင်စစ် ဤသူ သည်
ဘုရားသခင်၏သားတော်မှန်ပေ၏ ဟု ဆိုကြ၏။-
၅၅ ဂါလိလဲပြည်က ယေရှုနောက်တော်၌ အလုပ်အ
ကျွေးလိုက်လာသောမိန်းမအများတို့သည်လည်း၊
၅၆ ထိုအရပ်၌အဝေးကကြည့်ရှု၍နေကြ၏။-ထိုမိန်း
မတို့တွင်မာဂဒလမာရိ၊ယာကုပ်နှင့်ယောသေတို့
၏အမိဖြစ်သောမာရိနှင့်ဇေဗေဒဲ၏သားတို့၏အ
မိပါကြသတည်း။

၅၇ ညအချိန်ရောက်မှအရိမသဲမြို့သား၊ယောသပ်
အမည် ရှိ သော သူဌေး သည် ယေရှု ၏ တပည့်
၅၈ တော်ဖြစ်သည်နှင့်၊-ပိလတ်မင်းထံသို့ဝင်၍ယေ
ရှု၏အလောင်းတော်ကို တောင်းလေ၏။ ပိလတ်
မင်းသည်အလောင်းတော်ကိုပေးစေခြင်းငှါ အ
၅၉ မိန့်တော်ရှိသော်၊- ယောသပ်သည် အလောင်း
တော်ကိုယူ၍၊ မြူစင်သောပိတ်ချောနှင့် ပတ်ရစ်
၆၀ ပြီးလျှင်၊- ကျောက်၌ ထွင်းသောမိမိသင်းချိုင်း
တွင်းသစ် ထဲ မှာ ထား လေ ၏။ ကြီး စွာ သော
ကျောက်ကိုလည်းတွင်းဝ၌လှိမ့်ထားပြီးမှသွား
၆၁ ၏။- မာဂဒလမာရိနှင့် အခြားသောမာရိသည်
ထိုအရပ်၌သင်းချိုင်းတော်ရှေ့မှာထိုင်လျက်နေ
ရစ်ကြ၏။

၆၂ အဘိတ်နေ့လွန်၍နက်ဖန်နေ့ရောက်လျှင်၊ယဇ်
ပုရောဟိတ်အကြီးနှင့် ဖာရိရှဲတို့သည် ပိလတ်
၆၃ မင်းထံ၌စုဝေး၍၊- ထိုလှည့်ဖြားသောသူက၊ငါ
သည်သုံးရက်မြောက်သောနေ့၌ ထမြောက်မည်
ဟု၊ မသေမီပြောသည်ကို အကျွန်ုပ်တို့ မှတ်မိပါ
၆၄ ပြီ။- ထိုကြောင့်၊ သူ၏တပည့်တို့သည် ညအခါ
လာ၍အလောင်းကိုခိုးယူပြီးလျှင်၊ သူသည်သေ
ခြင်းမှ ထမြောက်တော်မူပြီဟု၊ လူ အပေါင်းတို့
အားပြောဆိုကြသော်၊ ရှေ့အမှားထက် နောက်
အမှားသာ၍ကြီးမည်ဟုစိုးရိမ်စရာအကြောင်း
ရှိသည် ဖြစ်၍၊ သင်း ချိုင်း တွင်း ကို သုံး ရက်
မြောက်အောင် လုံချုံစွာ စောင့် မိမ့်သောငှါ အ
၆၅ မိန့် ရှိတော်မူပါဟု လျှောက် ကြလျှင်၊- ပိလတ်
မင်းက၊သင်တို့၌လူစောင့်တတပ်ရှိ၏။ သွားကြ၊
တတ်နိုင်သမျှအတိုင်း လုံချုံစွာ စောင့်စေကြဟု
၆၆ ဆိုလေ၏။- ထိုသူတို့သည် သွား၍ ကျောက်ကို
တံဆိပ်ခတ်ပြီးလျှင်၊ အစောင့်ထားလျက် သင်း
ချိုင်းတွင်းတော်ကိုလုံချုံစွာပြုကြ၏။

၂၈

၁ ဥပုသ်နေ့လွန်၍ ခုနှစ်ရက်တွင်ပဌမ နေ့ရက်
မိုးသောက်ထွန်းတဲ့ဆဲဆဲအချိန်၌၊ မာဂဒလမာရိနှင့်
အခြားသောမာရိသည် သင်းချိုင်းတော်ကို အ
၂ ကြည့်အရှုသွားကြ၏။- ထိုအခါ မြေကြီးသည်
ပြင်းစွာ လှုပ်လေ၏။ အကြောင်းမူကား၊ ထာ
ဝရဘုရား၏ကောင်းကင်တမန်သည်ကောင်းကင်
ဘုံမှဆင်းလာ၍၊တွင်းဝ၌ပိတ်သောကျောက်ကို
လှိမ့် လှန် ပြီး လျှင်၊ ထိုကျောက်ပေါ်မှာ ထိုင်နေ
၃ ၏။-သူ၏မျက်နှာသည်လျှပ်စစ်ကဲ့သို့ထင်၏။အ
၄ ဝတ်သည်လည်းမိုးပွင့်ကဲ့သို့ဖြူ၏။- လူစောင့်
တို့သည်ကောင်းကင်တမန်ကိုကြောက်ရွံ့သဖြင့်
၅ တုန်လှုပ်၍သေမတတ်ဖြစ်ကြ၏။- ကောင်းကင်
တ မန် က လည်း၊ ကြောက် ရွံ့ ခြင်း မရှိ ကြ နှင့်။
လက်ဝါးကပ်တိုင်မှာ သတ်သော ယေရှုကိုသင်
၆ တို့ရှာကြသည်ကိုငါသိ၏။- ဤအရပ်၌မရှိ။ မိန့်
တော်မူသည်အတိုင်းထမြောက်တော်မူပြီ။ လာ
ကြ၊ သခင် လျောင်းတော်မူရာ အရပ်ကို ကြည့်
၇ ကြလော့။- အလျင်အမြန်ပြန်သွား၍၊သေခြင်း
မှထမြောက်တော်မူကြောင်းကို တပည့်တော်တို့
အား ပြောကြလော့။ သင်တို့ရှေ့၊ ဂါလိလဲပြည်
သို့ကြွတော်မူမည်။ ထိုပြည်၌သင်တို့သည်ကိုယ်
တော်ကို တွေ့မြင်ရကြလိမ့်မည်၊ ငါပြောပြီဟု၊
၈ ထိုမိန်းမတို့အား ကောင်းကင်တမန် ဆို၏။- ထိုမိန်းမ
တို့သည်လည်း ကြောက် ရွံ့သဖြင့် ၎င်း၊ အလွန်
ဝမ်း မြောက် သဖြင့် ၎င်း၊ သင်းချိုင်း တော်မှ အ
လျင်အမြန်သွား၍၊တပည့်တော်တို့အား ထိုသိ
တင်း စကား ကို ကြား ပြောခြင်းငှါ ပြေးကြ၏။-
၉ ထမ်းမှာသွားကြစဉ်၊ ယေရှုသည်ကြို ဆိုတော်
မူ၍၊သင်တို့အား မင်္ဂလာဖြစ်စေသတည်းဟုမိန့်
တော်မူ၏။ ထိုမိန်းမတို့သည် ချဉ်းကပ်၍ ခြေတော်
၁၀ ကိုဖက်ယမ်းလျက်ပြပ်ဝပ်ကိုးကွယ်ကြ၏။-ယေ
ရှုကလည်း၊ ကြောက် ရွံ့ခြင်းမရှိကြနှင့်။ သွား
ကြလော့။ငညီတို့သည်ဂါလိလဲပြည်သို့သွားစေ
ခြင်း ငှါ ဤ သိ တင်း စကား ကို ကြား ပြော ကြ
လော့။ ထိုပြည်၌ သူတို့သည်ငါကို တွေ့မြင်ရကြ
လိမ့်မည်ဟုမိန့် တော်မူ၏။

၁၁ ထိုမိန်းမတို့သည်သွားကြစဉ်အခါ လူစောင့်အ
ချို့တို့သည်မြို့ထဲသို့ဝင်၍၊ ဖြစ်လေသမျှသောအ
ခြင်းအရာတို့ကိုယဇ်ပုရောဟိတ်အကြီးတို့အား

၁၂ ပြန်ကြွားကြ၏။- ယင်း ပရောဟိတ်အကြီးတို့နှင့်
လူအကြီး အကဲတို့သည် စုဝေး၍ တိုင်ပင်ပြီးမှ၊
၁၃ စစ်သူရဲတို့အားငွေအများကိုပေး၍၊- ညည့်အ
ခါ ငါတို့ အိပ်ပျော်စဉ်တွင်၊ ထိုသူ၏ တပည့်တို့
သည်လာ၍ အလောင်းကို ခိုးသွားကြသည်ဟု
၁၄ သင်တို့ပြောကြလော့။- ထိုအကြောင်းကို မြို့ဝန်
မင်းကြားပြန်လျှင်၊ ငါတို့သည်သူကို ဖျောင်းဖျ
၁၅ ၍သင်တို့၌ အမှုမရှိစေခြင်းငှါပြုမည်ဟု၊- ထွန်
သင်သည်နှင့်အညီ၊ စစ်သူရဲတို့သည်ငွေကိုယူ၍
ပြုကြ၏၊ ထိုစကားကိုယာခုတိုင်အောင်ယုဒလူတို့
သည်အနှံ့အပြားပြောဆိုကြ၏။
၁၆ တကျိပ် တပါး သော တပည့်တော် တို့ သည်
ဂါလိလဲ ပြည်သို့ သွား၍၊ ယေရှု မှာထားတော်
မူ သော တောင် ပေါ်သို့ တက် ကြ လျှင်၊ ကိုယ်
၁၇ တော်ကိုတွေ့မြင်၍ ပြပ်ဝပ်ကိုးကွယ်ကြ၏။- အ
၁၈ ချို့တို့သည် ယုံမှားခြင်း ရှိ ကြ၏။- ယေရှု သည်
အနီးအပါး သို့ ချည်းတော် မူ ပြီးလျှင်၊ ကောင်း
ကင်ဘုံ၌ရှင်၊ မြေကြီးပေါ်၌ရှင် စိုးရင် ပိုင်သော
၁၉ အခွင့် တန်ခိုး ရှိသမျှတို့ကို ငါခံရပြီ။- သင်တို့
သွား၍ လူ မျိုး တကာ တို့ ကို ငါ တပည့် ဖြစ် စေ
လျှက်၊ ခမည်းတော်၊ သားတော်၊ သန့်ရှင်းသော
ဝိညာဉ်တော်၏ နာမ၌နှစ်ခြင်းကိုပေးကြလော့။-
၂၀ ငါ သည် သင်တို့ အား ပေး ထား သော ပညတ်
တော်တို့ကို စောင့်ရှောက် စေခြင်းငှါ ဆုံးမ ဩဝါ
ဒပေးကြလော့။ ငါသည်လည်း၊ ကပ်ကမ္ဘာကုန်
သည် တိုင် အောင် သင် တို့ နှင့် အတူ အစည် မ
ပြတ် ရှိ သည် ဟု၊ တ ပည့် တော် တို့ အား မိန့်
တော်မူ၏။

ရှင်မဿဲခရစ်ဝင်ပြီး၏။

---

# ရှင်မာကုခရစ်ဝင်း

## MARK.

၁

၁ ဘုရားသခင် သားတော်ယေရှုခရစ်၏ ဧဝံဂေ
၂ လိတရား၏အစကို ဆိုပေအံ့။- အနာဂတ္တိကျမ်း
စာ၌လာသည်ကား၊ ကြည့်ရှုလော့၊ သင်သွား
ရာလမ်းကိုပြင်ရသောငါ၏တမန်ကိုသင့်ရှေ့၌ငါ
၃ စေလွှတ်၏။- တော၌ဟစ်ကြော်သောသူ၏အသံ
မှာ၊ထာဝရဘုရားကြွတော်မူရာလမ်းကို ပြင်ကြ
လော့၊ လမ်းခရီးတော်ကိုဖြောင့်စေကြလော့ဟု
၄ လာသည်နှင့်အညီ၊-ယောဟန်သည်တော၌နှစ်
ခြင်းကို ပေးလျှက်၊ အပြစ် လွှတ်ခြင်းအမှို့အလို
ငှါ နောင်တနှင့်စပ်ဆိုင်သော နှစ်ခြင်း တရားကို
၅ ဟောလျက်ပေါ်ထွန်း၏။- ယေရုရှလင် မြို့သား
များမှစ၍၊ ယုဒပြည်သူ ပြည်သား အပေါင်းတို
သည်၊ ယောဟန်ထံသို့ ထွက် သွား၍ မိမိ တို့အ
ပြစ်များကိုဖော်ပြလျှက်၊ယော်ဒန်မြစ်၌နှစ်ခြင်း
၆ ကို ခံကြ၏။- ယောဟန်သည် ကုလားအုတ်အ
မွေးနှင့် ရက်သောအဝတ်ကို ဝတ်လျှက်၊ ခါး၌
သားရေခါးပန်းကို စည်းလျှက်၊ ကျိုင်းကောင်နှင့်
တော၌ ဖြစ်သော ပျားရည်ကို စားလျှက် နေ၏။-
၇ ဟောချက် စကားဟူမူကား၊ ငထက်တတ် စွမ်း
နိုင်သော သူသည် ငနောက် ကြွလာ၏။ ထိုသူ၏
ခြေနင်း တော် ကြိုး ကိုမျှ ငုံ့၍ ဖြည် ခြင်းငှါ ငါမ
၈ ထိုက်။- ငါသည် သင်တို့အား ရေ၌ နှစ်ခြင်းကို
ပေး၏။ ထိုသူသည်သန့်ရှင်းသောဝိညာဉ်တော်
၌သင်တို့ကိုနှစ်တော်မူမည်ဟုဟောသတည်း။
၉ ထိုအခါ ယေရှုသည် ဂါလိလဲပြည် နာဇရက်
မြို့မှကြွလာ၍ယောဟန်ထက်ဖြင့် ယော်ဒန်မြစ်၌
၁၀ နှစ်ခြင်းကိုခံတော် မူ၏။- ရေမှ ပေါ်ထစည်တွင်
ကောင်းကင်ကွဲ၍ ဝိညာဉ်တော်သည်ချိုးငှက်ကဲ့
သို့ကိုယ်တော်အပေါ်၌ဆင်းသက်တော်မူသည်
၁၁ ကိုမြင်ရ၍၊- သင်ကား၊ ငါနှစ်သက် မြတ်နိုး ရာ
ငါ၏ ချစ်သား ပေတည်း ဟု၊ ကောင်းကင်က အ
၁၂ သံတော်ဖြစ်လေ၏။- ထိုခဏချင်းတွင်၊ ဝိညာဉ်
တော် သည် ယေရှုကို တောသို့ သွား စေ တော် မူ

သည် သွားရမည်။ ထိုသော်သည်း၊ လူသားကို
အပ်နှံသောသူသည်အမင်္ဂလာရှိ၏။ ထိုသူသည်
ဖွားမြင်ခြင်းကိုမခံရလျှင်၊ အနေသာ၍ကောင်း
၂၅ သည်ဟု မိန့်တော်မူ၏။- ကိုယ်တော်ကို အပ်နှံ
မည်သူ၊ ယုဒရှကာရုတ်ကသည်း၊ အရှင်ဘုရား၊
အကျွန်ုပ်လောဟုမေးလျှောက်လျှင်၊သင်ဆိုသည်
အတိုင်းမှန်သည်ဟုပြန်ပြောတော်မူ၏။
၂၆ ထိုအခါစားလျက်နေကြစဉ်တွင်၊ ယေရှုသည်
မုန့်ကိုယူ၍ ကျေးဇူးတော်ကို ချီးမွမ်းပြီးမှမုန့်
ကိုဖဲ့၍၊ ဤမုန့်ကား၊ငါ၏ကိုယ်ဖြစ်၏။ ယူ၍စား
ကြလော့ဟု မိန့်တော်မူလျက်၊ တပည့်တော်တို့
၂၇ အားပေးတော်မူ၏။- ခွက်ကိုလည်းယူ၍ ကျေး
ဇူးတော်ကိုချီး မွမ်းပြီးမှ သူတို့အားပေးတော်မူ
၂၈ ၍၊ သင်တို့ရှိသမျှသည် သောက်ကြလော့။- ဤ
ခွက်ကား၊ ပဋိညည် တရား သစ်နှင့် ဆိုင်၍၊ လူ
များတို့၏ အပြစ်ကို လွှတ်စေခြင်းငှါ သွန်းသော
၂၉ ငါ၏အသွေးဖြစ်၏။- ငါ ဆိုသည်ကား၊ ဤစပျစ်
ရည်မျိုးအသစ်ကို ခမည်းတော်၏ နိုင်ငံ၌ သင်
တို့နှင့်အတူ ငါမသောက်မှီ နေ့တိုင်အောင် ယခု
၃၀ မှစ၍၊တဖန်ငါမသောက်ရဟုမိန့်တော်မူ၏။-ထို
နောက်၊ သီခြင်း ဆိုကြပြီးမှ သံလွင် တောင်သို့
ထွက်သွားကြ၏။
၃၁ ထိုအခါ ယေရှုကလည်း၊ ကျမ်းစာ လာသည်
ကား၊ သိုးထိန်းကိုငါရိုက်သတ်၍ သိုးတို့သည်ကွဲ
လွင့်ရကြလိမ့်မည်ဟု ရေးထားသည်နှင့်အညီ၊
ယနေ့ ညည့်တွင် သင်တို့ရှိသမျှသည် ငါ့ကြောင့်
၃၂ စိတ်ပျက်ကြလိမ့်မည်။-သို့သော်လည်း၊ငါသည်
ထမြောက် ပြီးမှ သင် တို့ရှေ့၊ ဂါလိလဲ ပြည်သို့
၃၃ သွားမည်ဟု မိန့်တော်မူသော်၊- ပေတရုက၊ ဤ
သူရှိသမျှတို့သည်ကိုယ်တော်ကြောင့်စိတ်ပျက်
ကြသော်လည်း၊ အကျွန်ုပ်သည် စိတ်အလျှင်းမ
၃၄ ပျက်ပါဟုလျှောက်လေ၏။- ယေရှုကလည်း၊ငါ
အမှန် ဆိုသည်ကား၊ ယနေ့ညည့်တွင် ကြက်မ
တွန်မှီ သင်သည် သုံးကြိမ်မြောက်အောင် ငါ့ကို
၃၅ ငြင်းပယ်လိမ့်မည်ဟုမိန့်တော်မူလျှင်၊- ပေတရု
က၊ ကိုယ်တော်နှင့်တကွသေရသော်လည်း၊ အ
ကျွန်ုပ်သည် ကိုယ်တော်ကို မငြင်း မပယ်ပါဟု
လျှောက်ပြန်၏။ တပည့်တော်အပေါင်းတို့သည်
လည်းထိုနည်းတူလျှောက်ကြ၏။
၃၆ ထိုအခါယေရှုသည် သူတို့နှင့်အတူဂေသရှေ
မန်အရပ် သို့ရောက်တော်မူလျှင်၊ ငါသည်ထိုအ
ရပ်သို့သွား၍ ဆုတောင်း စဉ်တွင် ဤ အရပ် ၌

ထိုင်နေကြလော့ဟု၊ တပည့် တော်တို့အား မိန့်
၃၇ တော်မူပြီးမှ၊- ပေတရု နှင့် ဇေဗေဒဲ၏ သား နှစ်
ယောက်တို့ကိုခေါ်သွား၍၊ နှစ်လုံးမသာ၊စိတ်ပူ
၃၈ ပန်ခြင်းသို့ရောက်တော်မူ၏။-ထိုအခါယေရှုက၊
ငါသည်သေလောက်အောင် စိတ်နှစ်လုံးအလွန်
ညှိုးငယ်ခြင်းရှိ၏။ ဤအရပ်၌ ငါနှင့်အတူစောင့်
၍နေကြလော့ဟု၊ တပည့်တော် သုံးယောက်တို့
၃၉ အားမိန့်တော်မူ၍၊- ထိုမှအနည်းငယ် လွန်ပြန်
လျှင်ပြပ်ဝပ်၍၊ အကျွန်ုပ်အဖ၊ ဤခွက်သည် အ
ကျွန်ုပ်ကို လွန် သွား နိုင် လျှင် လွန် သွား ပါ စေ
သော၊ သို့သော်သည်း၊ အကျွန်ုပ် အလိုရှိသည်
အတိုင်းမဖြစ်ပါစေနှင့်။ကိုယ်တော်အလိုရှိသည်
အတိုင်း ဖြစ်ပါစေသောဟု ဆု တောင်း တော်မူ
၄၀ ၏။- တပည့်တော်တို့ရှိရာသို့ပြန်၍၊ သူတို့သည်
အိပ်ပျော်လျက်နေကြသည်ကို တွေ့တော်မူလျှင်၊
သင်တို့သည် တနာရီခန့်မျှ ငါနှင့်အတူ စောင့်၍
၄၁ နေခြင်းငှါ ဤသို့ မစွမ်း နိုင် သ လော၊- စုံစမ်း
နှောင့်ရှက်ခြင်းနှင့် ကင်းလွတ်မည် အကြောင်း၊
ဆုတောင်းလျက်စောင့်နေကြလော့။ စိတ်ဝိညာဉ်
ကား စေတနာရှိပြားသော်လည်း၊ ကိုယ်မူကား
အားနည်းသည်ဟု၊ ပေတရုအား မိန့်တော်မူပြီး
၄၂ မှ၊- တဖန်သွား၍၊အကျွန်ုပ်အဖ၊ ဤခွက်ကိုအ
ကျွန်ုပ်မသောက်ဘဲလွန်၍ မသွားရလျှင်၊ ကိုယ်
တော်အလိုရှိသည်အတိုင်းဖြစ်ပါစေသောဟုဆု
၄၃ တောင်းပြန်၏။-ထိုနောက်၊တပည့်တော်တို့ရှိရာ
သို့လာ၍၊ သူတို့သည်မျက်စိလေးလံသဖြင့် တ
ဖန် အိပ်ပျော်လျက် နေကြသည်ကို တွေ့တော်မူ
၄၄ လျှင်၊-သူတို့ကိုထားခဲ့၍တဖန်သွားပြီးလျှင်ရှေ့
မြွက်ဆိုသည်နည်းတူ၊ သုံးကြိမ်မြောက်အောင်
၄၅ ဆုတောင်းတော်မူ၏။- ထိုနောက်၊တပည့်တော်
တို့ရှိရာသို့ ပြန်လာလျှင်၊ ယခု အိပ်ပျော်၍ ငြိမ်
ဝပ်စွာနေကြလော့။ လူသားကို ဆိုးသောသူတို့
လက်သို့ အပ်နှံရသော အချိန် ရောက်လာပြီ။-
၄၆ ထကြ၊ ငါတို့သည်သွားကြကုန်အံ့။ ငါ့ကိုအပ်နှံ
သောသူသည်ရောက်လာပြီဟုမိန့်တော်မူ၏။
၄၇ ထိုသို့မိန့်တော်မူစဉ်တွင် ပင်တပည့်တော်တ
ကျိပ်နှစ်ပါးအဝင်ဖြစ်သော ယုဒရှကာရုတ်သာ
၏။ ယဇ်ပုရောဟိတ်အကြီးတို့နှင့် လူတို့တွင်အ
ကြီးအကဲဖြစ်သောသူများစေလွှတ်သောလူအစု
အဝေး အပေါင်းတို့သည် ထားနှင့် ဒုတ်များကို
၄၈ ကိုင်လျက်ပါကြ၏။-ကိုယ်တော်ကိုအပ်နှံသော
သူက၊ ငါနမ်းသောသူသည်ယေရှုပင်ဖြစ်၏။ သူ

ကိုဖမ်းကြလော့ဟု ထိုသူတို့အား အမှတ်ပေးခဲ့သည်
၄၉ အတိုင်း၊- ကိုယ်တော်ရှင်းသို့ ချက်ချင်း ချဉ်း
ကပ်၍၊ အရှင်ဘုရား၊ မင်္ဂလာရှိပါစေသောဟု ဆို
၅၀ လျက်နမ်းလေ၏။- ယေရှုကလည်း၊ အဆွေ၊ အ
ဘယ်အခွင်းရှိ၍လာသနည်းဟု မေးတော်မူပြီး
မှ၊ ထိုသူများတို့သည် လာ၍ ကိုယ်တော်ကိုဆွဲ
၅၁ ကိုင်ဖမ်းဆီးကြ၏။- ထိုအခါယေရှုနှင့်ပါသော
သူတယောက်သည် လက်ကိုဆန့်၍ ထားကို ဆွဲ
ထုတ်ပြီးလျှင်၊ ယဇ်ပုရောဟိတ်မင်း၏ ကျွန်တ
ယောက်ကို ခုတ်သဖြင့် နားရွက် ပြတ်လေ၏။-
၅၂ ယေရှုကလည်း၊ သင့် ထားကို သူနေရာ၌ ပြန်
ထားလော့၊ ထားကိုကိုင်သောသူရှိသမျှတို့သည်
၅၃ ထားဖြင့်ဆုံးခြင်းသို့ရောက်ကြလိမ့်မည်။- ယခု
ပင်ငါအဖကိုငါတောင်းနိုင်သည်ကိုရှင်၊ တောင်း
လျှင် ကောင်းကင် တမန် တဆယ် နှစ်တပ် မက
ထံသို့စေလွှတ် တော်မူမည်ကိုရှင် သင်သည် မ
၅၄ ထင်သလော။- သို့ဖြစ်လျှင်၊ ဤသို့သောအမှုအ
ရာတို့သည် ဖြစ်ရမည် ဟူသော ကျမ်း စာ ချက်
သည်အဘယ်သို့ ပြည့်စုံဖို့နည်းဟု မိန့်တော်မူ
၅၅ ၏။- ထိုအခါယေရှုက၊ သင်တို့သည် ထားမြကို
ဖမ်းသကဲ့သို့ ငါ့ကိုဖမ်းဖို့ သော်၎င်း ထားနှင့်ဒုတ်
များကို ကိုင်၍လျက်လာကြသည်တကား၊ ငါ
သည် မိတ်မှန်တော်၌ နေ့တိုင်းဆုံမှုပြဝါဒပေး
လျက်သင်တို့အလယ်၌ ထိုင်နေစဉ်အခါ၊ သင်
၅၆ တို့သည် ငါ့ကို မဖမ်းဆီးကြ။- ထိုအကြောင်းအ
ရာမူကား၊ အနာဂတ္တိ ကျမ်းစာ ပြည့်စုံ မည် အ
ကြောင်းတည်းဟု၊ လူအစုအဝေးတို့ကိုမိန့်တော်
မူ၏။ ထိုအခါ တပည့်တော် အပေါင်း တို့သည်
ကိုယ်တော်ကိုစွန့်ပြစ်၍ပြေးကြ၏။
၅၇ ကိုယ် တော် ကို ဖမ်း ဆီး သော သူ တို့ သည်၊
ကျမ်းပြုဆရာ၊ လူအကြီးအကဲများစည်းဝေးရာ၊
ယဇ် ပုရော ဟိတ် မင်း ကယာဖ ထံ သို့ ဆောင်
၅၈ သွားကြ၏။- ပေတရုသည်လည်း၊ ယဇ်ပုရော
ဟိတ်မင်း၏အိမ်ဦးတိုင်အောင်၊ ကိုယ်တော်နှင့်
ဝေးစွာလိုက်၍ အတွင်းသို့ဝင်ပြီးလျှင်၊ ထိုအမှု
၏အဆုံးကို သိမြင်ခြင်းငှါမင်းလုလင်တို့နှင့် အ
၅၉ တူထိုင်နေ၏။-ယဇ်ပုရောဟိတ်အကြီးတို့နှင့်လူ
အကြီးအကဲ၊ လွှတ်အရာရှိ အပေါင်း တို့သည်၊
ယေရှု ကို သတ် ရမည် အကြောင်း မမှန် သော
၆၀ သက်သေကို ရှာသော်လည်း မတွေ့ကြ။- မမှန်
သောသက်သေခံ အများလာသော်လည်း သက်
သေကိုမတွေ့ကြ၊ နောက်ဆုံး၌ မမှန်သောသက်
၆၁ သေခံနှစ်ယောက်တို့သည်လာ၍၊- ဤသူက၊ ငါ
သည်ဘုရားသခင်၏ ဗိမာန်တော်ကို ဖြိုဖျက်၍
သုံးရက်အတွင်းတွင်တည်ဆောက် နိုင်သည်ဟု
၆၂ ပြောပါသည်ဟု သက်သေခံကြ၏။- ယဇ်ပုရော
ဟိတ်မင်းသည်ထ၍၊ သင်သည်တ ခွန်းမျှပြန်၍
မပြောသလော။ ဤသူတို့သည်အဘယ်သို့သက်
၆၃ သေခံသနည်းဟု ဆိုလျှင်၊- ယေရှု သည် တိတ်
ဆိတ် စွာ နေ တော် မူ၏။ ယဇ်ပုရော ဟိတ် မင်း
ကလည်း၊ သင်သည် ခရစ်တော်တည်းဟူသော
ဘုရားသခင်၏သားတော်မှန်သဉ် မမှန်သည်ကို
ငါတို့အား ပြောစေခြင်းငှါ၊ အသက် ရှင်တော်မူ
သောဘုရားသခင်ကို ငါတိုင်တည်၍သင့်ကိုကျိန်
၆၄ ဆိုစေ၏ဟုဆိုလျှင်၊- ယေရှုက၊ သင်ဆိုသည်အ
တိုင်းမှန်၏။ ထိုမှမက၊ ငါဆိုသည်ကား၊ နောင်
ကာလ၌ လူသားသည် တန်ခိုးတော် ၏ လက်ျာ
ဘက်၌ ထိုင်လျက်၊ မိုဃ်းတိမ်ကိုစီး၍ ကြွလာ
သည်ကို သင်တို့မြင်ရကြလတ္တံ့ဟုမိန့်တော်မူ၏။-
၆၅ ထိုအခါ ယဇ်ပုရောဟိတ် မင်းသည် မိမိအဝတ်
ကိုဆုတ်လျက်၊ ဤသူသည်ဘုရားကိုလွန်ကျူး၍
ပြောပြီ။ အဘယ်သက်သေကို လိုသေးသနည်း။
ဘုရားကိုလွန်ကျူး၍ ပြောသောစကားကိုယခု
၆၆ ပင် သင်တို့ကြားရပြီ။- အဘယ်သို့ ထင်မှတ်ကြ
သနည်းဟုမေးမြန်းလျှင်၊ ထိုသူတို့က၊ ဤသူသည်
၆၇ အသေခံထိုက်ပေ၏ဟုပြန်၍ဖြေကြ၏။- ထိုအ
ခါ မျက်နှာ တော်ကို တံတွေး နှင့် ထွေး ကြ၏။
၆၈ လက်သီးနှင့် ထိုးကြ၏။- အချို့တို့သည်လည်း၊
ပါးတော်ကိုလက်နှင့်ပုတ်၍၊ အချင်းခရစ်တော်၊
ကိုယ်တော်ကို အဘယ်သူ ပုတ်သည် ကိုပရော
ဖက်ပြု၍ဟောတော်မူပါဟုဆိုကြ၏။
၆၉ ပေတရုသည်ပြင်မှာအိမ်ဦး၌ထိုင်နေစဉ်၊ အ
စေအပါမိန်းမတယောက်သည် သူ့ရှိရာသို့ လာ၍၊
သင် သည်လည်း ဂါလိလဲလူ ယေရှု နှင့် ပေါင်း
၇၀ ဖော်သောသူဖြစ်သည်ဟုဆိုလျှင်၊- ပေတရုက၊
သင်ပြောသောအရာကို ငါမသိဟု၊ လူအပေါင်း
၇၁ တို့ရှေ့၌ငြင်းခုံလေ၏။- ထိုနောက်၊ ပေတရုသည်
အိမ်ဦးရှေ့သို့ ထွက်ပြီးမှ အခြားသော မိန်းမသည်
သူကိုမြင်၍ထိုအရပ်၌ ရှိသောသူတို့အား၊ ဤသူ
လည်း နာဇရက်မြို့သားယေရှု နှင့် ပေါင်းဖော်
၇၂ သောသူဖြစ်သည်ဟုဆိုလျှင်၊- ပေတရုက၊ ထိုသူ
ကိုငါမသိဟု ကျိန်ဆိုလျက်တဖန်ငြင်းခုံပြန်၏။-
၇၃ ထိုနောက်မကြာ၊ ထိုအရပ်၌ရပ်နေသောသူ
တို့သည် ပေတရုအနီးသို့လာ၍၊ အကယ်စင်စစ်

သင်သည်လည်း၊ထိုသူတို့အဝင်ဖြစ်၏။သင့်စကား
သည် သင့်အကြောင်းကိုထင်ရှားစေ၏ဟုဆိုကြ
၇၄ လျှင်၊-ပေတရုက၊ထိုသူကိုငါမသိဟုမိဿာနှံပြု၍
ကျိန်ဆို၏။ ထိုခဏချင်းတွင် ကြက်တွန်လေ၏။-
၇၅ ယေရှုက၊ ကြက် မတွန်မှီ သင် သည် သုံး ကြိမ်
မြောက် အောင်၊ ငါကို ငြင်းပယ်လိမ့်မည်ဟု မိန့်
တော်မူသော စကားကို ပေတရုသည်သတိရလ
ဖြင့်၊ပြင်သို့ထွက်၍ ပြင်းစွာငိုကြွေးလေ၏။

၂၇

၁ နံနက် အချိန် ရောက်လျှင်၊ ယဇ်ပရောဟိတ်
အကြီးတို့နှင့် လူတို့တွင် အကြီးအကဲ ဖြစ်သော
သူအပေါင်းတို့သည် ယေရှုကို သတ်အံ့သောငှါ
၂ တိုင်ပင်၍၊- ကိုယ်တော်ကိုချည်နှောင်ပြီးလျှင်၊
မြို့ဝန်မင်းပုန္တိပိလတ်ထံသို့ ဆောင်သွား၍ အပ်
လိုက်ကြ၏။

၃ ထိုအခါကိုယ်တော်ကိုအပ်နှံ သောယုဒရှကာ
ရုတ်သည်ကိုယ်တော်၌သေပြစ်ကိုစီရင်ကြသည်
ကိုသိမြင်လျှင်၊နောင်တရ၍ငွေသုံးဆယ်ကိုယဇ်
ပရောဟိတ်အကြီး၊ လူအကြီးအကဲတို့၌ပြန်ပေး
၄ ၍၊-အကျွန်ုပ်ပြစ်မှားပါပြီ။အပြစ်မရှိသောသူ၏
အသွေး ကို အပ် မိပါ ပြီ ဟု ဆို၏။ ထိုသူ တို့ က
ထဲ၌၊ငါတို့နှင့်အဘယ်သို့ ဆိုင်သနည်း။ ကိုယ်
၅ အမှုကို ကိုယ်ကြည့်လော့ ဟု ဆိုကြသော်၊- သူ
သည်ထိုငွေကိုဗိမာန်တော်၌ပစ်ချခဲ့၍ အခြား
သို့သွားပြီးလျှင်၊ ထည်ကြိုးတပ်၍သေလေ၏။-
၆ ယဇ်ပရောဟိတ်အကြီးတို့သည် ထိုငွေကိုယူ၍
အသွေး၏ အဘိုးဖြစ်၏၊ ဘဏ္ဍာတော်၌ မသွင်း
၇ အပ်ဟုပြောဆို- တိုင်ပင်ပြီးမှ၊အိုးထိန်းသမား
၏ မြေအကွက်ကို တပါး အမျိုးသားတို့၏ သင်း
၈ ချိုင်း ဖြစ်စေခြင်းငှာ ထိုငွေနှင့် ဝယ်ကြ၏။- ထိုအ
ကြောင်းကိုအစွဲပြု၍၊ ယနေ့တိုင်အောင်ထိုမြေအ
၉ ကွက်ကိုသွေးမြေဟု ခေါ်တွင်ကြ၏။- ပရောဖက်
ယေရမိဟောသည်ကား၊ဣသရေလလူတို့သည်
အဘိုးဖြတ်သောသူ၏ကိုယ်အိုး၊ငွေသုံးဆယ်ကို
သူတို့သည်ယူ၍၊ ထာဝရဘုရားသည် ငါကို မှာ
၁၀ ထားတော်မူသည်အတိုင်း၊- အိုးထိန်းသမား၏
မြေအကွက်ကို ဝယ်ကြ၏ဟူသော စကားသည်
ထိုအခါပြည့်စုံခြင်းသို့ရောက်လေ၏။

၁၁ ယေရှုသည် မြို့ဝန်မင်းရှေ့သို့ ရောက် တော်မူ
သည်ရှိသော်၊ မြို့ဝန်မင်းက၊ သင်သည်ယုဒရှင်
ဘုရင်မှန်သလောဟု မေးလျှင်၊ ယေရှုက၊ မင်း
ကြီးမေးသည်အတိုင်း မှန်သည်ဟု မိန့် တော်မူ
၁၂ ၏။-ယဇ်ပရောဟိတ်အကြီးတို့နှင့် လူအကြီးအ
ကဲတို့သည်အပြစ်တင်ကြသော်၊တခွန်းကိုမျှပြန်
၁၃ တော်မမူ။-ပိလတ်မင်းကလည်း၊ သင့်တဖက်၌
အဘယ်မျှလောက်သက်သေခံကြသည်ကိုသင်
၁၄ မကြားသလောဟုပြောဆိုသော်လည်း၊-စကား
တခွန်း ကိုမျှ ပြန် တော်မမူသည်ကို မြို့ ဝန်မင်း
သည်အလွန်အံ့ဩလေ၏။

၁၅ ထိုပွဲ၌ မြို့ဝန်မင်းသည် အကျဉ်းထားသော
သူတို့တွင်၊လူများတို့အလိုရှိသောသူတယောက်
၁၆ ယောက်ကိုလွှတ်မြဲထုံးစံရှိ၏။-ထိုအခါအကျဉ်း
ထား သော သူတို့ တွင်၊ ဗာရဗ္ဗ အ မည် ရှိ သော
၁၇ ကျော် စော သော သူ တ ယောက် ရှိ၏။- လူ များ
စည်းဝေးကြသည်ရှိသော်၊ပိလတ်မင်းက၊ သင်
တို့သည်အဘယ်သူကိုလွှတ်စေချင်သနည်း။ ဗာ
ရဗ္ဗကို လွှတ်စေချင်သလော။ ခရစ်ဟု ခေါ်ဝေါ်
သော ယေရှုကို လွှတ်စေချင်သလောဟု လူများ
၁၈ တို့အားမေးလေ၏။- အဘယ်ကြောင့်ဤသို့မေး
သနည်းဟူမူကား၊ ထိုသူတို့သည် မနာလိုသော
စိတ်နှင့်ယေရှုကိုအပ်နှံကြောင်းကို ပိလတ်မင်း
၁၉ သိ၏။- ထိုမှတပါး၊တရားပလ္လင်ပေါ်မှာထိုင်စဉ်
တွင်၊ မိမိခင်ပွန်းသည် လုလင်တယောက်ကိုစေ
လွှတ်၍၊ထိုဖြောင့်မတ်သောသူကိုအဘယ်သို့မျှ
မပြုပါနှင့်။ ယနေ့ပင်ကျွန်မသည် ထိုသူကြောင့်
၂၀ အိပ်မက်၌ပြင်းစွာခံရပါပြီဟုမှာလိုက်၏။-လူအ
စုအဝေးတို့သည်၊ဗာရဗ္ဗကိုတောင်း၍ယေရှုကို
သတ်စေခြင်းငှါ၊ ယဇ်ပရောဟိတ်အကြီးတို့နှင့်
လူအကြီး အကဲ တို့သည် လူများကို တိုက်တွန်း
၂၁ သွေးဆောင်ကြ၏။-ထိုကြောင့်၊ မြို့ဝန်မင်းသည်
ဤသူနှစ်ယောက်တို့တွင်၊ သင်တို့သည်အဘယ်
သူကို လွှတ်စေချင်သနည်းဟု၊ လူများကို တဖန်
မေးသောအခါ၊ ဗာရဗ္ဗကို လွှတ်စေချင်ပါသည်
၂၂ ဟု လျှောက်ကြ၏။- ပိလတ်မင်းကလည်း၊ သို့
ဖြစ်လျှင်၊ ခရစ်ဟု ခေါ်ဝေါ်သော ယေရှုကိုအ
ဘယ်သို့ ပြုရမည်နည်းဟု မေးပြန်သော်၊ ထိုသူ
အပေါင်းတို့က၊ သူသည် လက်ဝါးကပ်တိုင်မှာ
၂၃ ရိုက်ထားခြင်းကိုခံပါလေစေဟုဆိုကြ၏။-မြို့ဝန်
မင်းကလည်း၊ အဘယ်ကြောင့်နည်း။ အဘယ်
အပြစ်ကို ပြုဘိသနည်းဟုမေးလျှင်၊ ထိုလူသည်
လက်ဝါးကပ်တိုင်မှာရိုက်ထားခြင်းကိုခံပါလေ
၂၄ စေဟု၊လူများတို့သည်သာ၍ဟစ်ကြ၏။- ပိလတ်
မင်းသည်မိမိမနိုင်၊လူများသာ၍ရုန်းရင်းခတ်မှု
ပြုကြသည်ကို မြင်လျှင်၊ ရေကိုယူ၍ လူများရှေ့

ထွန်မိမိလက်ကိုဆေးလျှက်၊ ဤဖြောင့်မတ်သော
သူ၏အသွေးနှင့် ငါသည် ကင်းရှင်း၏၊ ဤအမှု
၂၅ ကို သင်တို့ကြည့်ကြလော့ဟု ဆို၏။- ထိုလူအ
ပေါင်းတို့က၊ ထိုသူ၏အသွေးသည်ငါတို့၏ ခေါင်း
ပေါ်၌၎င်း၊သားမြေးတို့၏ခေါင်းပေါ်၌၎င်းတည်
၂၆ ရှိပါစေဟု ပြန်ပြောကြ၏။- ပိလတ် မင်း သည်
လည်း ဗာရဗ္ဗကို လူများတို့အား လွှတ် လေ၏၊
ယေရှုကိုကားရိုက်ပြီးလျှင်၊ လက်ဝါးကပ်တိုင်
မှာသတ်စေခြင်းငှါအပ်လိုက်လေ၏။
၂၇ ထိုအခါ မြို့ဝန်မင်း၏စစ်သူရဲတို့သည် ယေရှု
ကို မင်းတော်ဦးသို့ ဆောင်သွား၍၊ စစ်သူရဲ တ
၂၈ ထပ်လုံးကို အထံတော်၌စုရုံးစေပြီးမှ၊- အဝတ်
တော်ကိုချွတ်၍နီသောဝတ်လုံကို ချုံစေကြ၏။-
၂၉ ဆူးပင်နှင့် ရက်သော ဦးရစ်ကို ခေါင်း တော်၌
တင်ကြ၏၊ ကျူတလုံးကိုလည်း လက်ျာ လက်
တော် နှင့် ကိုင် စေ ပြီး လျှင်၊ ရှေ့ တော် မှာ ဒူး
ထောက်လျှက်၊ ယုဒရှင်ဘုရင်၊ ကိုယ်တော်သည်
မင်္ဂလာရှိစေသတည်းဟူ၍ ကိုယ်တော်ကို ပြက်
၃၀ ရယ်ပြုကြ၏။- ကိုယ်တော်ကိုတံတွေးနှင့် ထွေး
ကြ၏၊ ကျူလုံးကိုယူ၍ ခေါင်းတော်ကို ရိုက်ကြ
၃၁ ၏။- ထို သို့ ကိုယ် တော် ကို ပြက် ရယ် ပြု သည်
နောက်၊ မင်းဝတ်လုံကို ချွတ်၍ အဝတ်တော်ကို
ဝတ်ပြန်စေပြီးလျှင်၊ လက်ဝါးကပ်တိုင်မှာရိုက်
ထားခြင်းငှါထုတ်သွားကြ၏။
၃၂ သွားကြစဉ်တွင် ရှိမုန်အမည်ရှိသော ကုရေ
နေမြို့သားတယောက်ကိုတွေ့လျှင်၊အနိုင်ပြု၍
လက် ဝါး ကပ် တိုင် တော် ကို ထမ်း စေ ကြ ၏။-
၃၃ ဦးခေါင်းခွံအရပ်ဟုဆိုလိုသော ဂေါလဂေါသ
အမည် တွင်သော အရပ်သို့ ရောက် ကြသော်၊-
၃၄ ဆေး ခါး နှင့် ရော သော ပုံးရည် ကို ကိုယ် တော်
အားသောက်စိမ့်သောငှါ ပေးလျှင်၊ မြည်းစမ်း
၃၅ တော်မူ၍ မသောက် ချင်ဘဲ နေ တော် မူ၏။- ကိုယ်
တော် ကို လက်ဝါးကပ် တိုင် မှာ ရိုက် ထား ပြီး
လျှင်၊ အဝတ်တော်တို့ကို စာရေးတံချ၍ ဝေဖန်
၃၆ ကြ၏။-ထိုအရပ်၌လည်းထိုင်လျက်စောင့်နေကြ
၃၇ ၏။- အပြစ်ဖော်ပြသောကမ္ပည်းလိပ်စာချွတ်တူ
ရှုလား၊ဤသူသည်ယုဒရှင်ဘုရင်ယေရှုပေတည်း
ဟုရေး၍၊ ခေါင်းတော်ပေါ်မှာ တပ်ထားတည်း။-
၃၈ ထိုအခါကိုယ်တော်နှင့်တကွဓားမြနှစ်ယောက်
တို့ကို လက်ျာတော်ဘက်၌ တယောက်၊ လက်ဝဲ
တော်ဘက်၌ တယောက်၊ လက်ဝါးကပ်တိုင်မှာ
ရိုက်ထားကြ၏။

၃၉ လမ်းမှာသွားလာသောသူတို့ကလည်း၊ ဗိ
မာန်တော်ကိုဖြိုဖျက်၍သုံးရက်အတွင်း၊တဖန်တည်
ဆောက်ပြန်သောသူ၊ ကိုယ်ကို ကိုယ်ကယ်တင်
၄၀ လော့။-ဘုရားသခင်၏သားတော်မှန်လျှင်၊လက်
ဝါးကပ်တိုင်မှ ဆင်းလော့ဟု၊ မိမိတို့ ခေါင်းကို
၄၁ ညိတ်၍ ကဲ့ရဲ့သောစကားနှင့်ပြောဆိုကြ၏။- ထို
နည်း တူ၊ ယဇ် ပု ရော ဟိတ် အ ကြီး၊ ကျမ်း ပြု
ဆရာ၊လူအကြီးအကဲတို့က၊ဤသူသည်သူတပါး
၄၂ တို့ကိုကယ်တင်တတ်၏။- ကိုယ်ကိုမကယ်တင်
နိုင်ပါတကား၊ ဣသရေလ ရှင် ဘုရင် မှန် လျှင်၊
လက်ဝါးကပ်တိုင်မှ ယခုဆင်းပါလေစေ၊ ဆင်း
၄၃ လျှင်ငါတို့ယုံကြည်မည်။- သူသည်ဘုရားသခင်
ကိုကိုးစားပြီ၊ငါသည်ဘုရားသခင်၏သားဖြစ်၏
ဟုဆိုပြီ၊သို့ဖြစ်၍၊ဘုရားသခင်သည် သူ၌အလို
တော်ရှိလျှင်၊ ယခုပင် ကယ် တင် တော်မူပါလေ
၄၄ စေဟု၊ပြက်ရယ်ပြု၍ပြောဆိုကြ၏။-ထိုနည်းတူ၊
ကိုယ်တော်နှင့်တကွ လက်ဝါးကပ်တိုင်မှာရိုက်
ထားသော ဓားမြ တို့သည်လည်း ကဲ့ရဲ့ အပြစ်
တင်ကြ၏။
၄၅ နှန်းတည့်အချိန်မှစ၍သုံးချက်တီးအချိန်တိုင်
အောင်၊ မြေတပြင်လုံး၌ မှောင်မိုက် အတိ ဖြစ်
၄၆ လေ၏။- သုံးချက်တီး အချိန်၌ ယေရှုက၊ ဧလိ၊
ဧလိ၊ လာမာရှာဗခသာနီဟုကြီးသောအသံနှင့်
ကျွေးကြော်တော်မူ၏၊ အနက် ကား၊ အကျွန်ုပ်
ဘုရား၊ အကျွန်ုပ် ဘုရား၊ အ ဘယ် ကြောင့် အ
ကျွန်ုပ်ကို စွန့် ပြစ် တော် မူသ နည်း ဟု ဆိုလိုသ
၄၇ တည်း။-ထိုအရပ်၌ရပ်နေသောသူအချို့တို့သည်
ကြားလျှင်၊ သူသည်ဧလိယကိုခေါ်သည်ဟု ဆို
၄၈ ကြ၏။- လူတယောက်သည်ချက်ချင်းပြေး၍ ရေ
မြှုပ်တခုကို ပုံးရည်နှင့် ပြည့်စေပြီးလျှင်၊ ကျူ
လုံးဖျား၌ တပ်၍ ကိုယ်တော်အား သောက်စိမ့်
၄၉ သောငှါပေးလေ၏။- ကြွင်းသောသူတို့က၊ ရှိစေ
တော့၊ ဧလိယသည်သူကိုကယ်တင်ခြင်းငှါလာ
မည် မလာ မည်ကို ကြည့် ကြကုန်အံ့ဟု ဆိုကြ
၅၀ ၏။-ယေရှုသည်ကြီးသောအသံနှင့် တဖန်ကျွေး
ကြော်ပြီးလျှင်အသက်တော်ကိုလွှတ်တော်မူ၏။
၅၁ ထိုအခါ ဗိမာန်တော်၏ ကုလားကာသည်အ
ထက်စွန်းမှအောက်စွန်းတိုင်အောင်စုတ်ကွဲလေ
၏၊မြေကြီးလှုပ်လေ၏၊ကျောက်များတို့သည်ကွဲ
၅၂ ပြားကြ၏။-သင်္ချိုင်းတွင်းတို့သည်ပွင့်ကြသ
ဖြင့်၊ကျိန်းစက်လျက်ရှိသောသန့်ရှင်းသူတို့၏အ
၅၃ လောင်းများစွာတို့သည်ထကြ၍၊- ကိုယ်တော်

အခြောက်တော်မူသည်နောက်၊ ထို လူတို့သည်
သင်းချိုင်းတွင်းမှ ထွက်၍ သန့်ရှင်းသော မြို့ထဲ
သို့ဝင်ပြီးလျှင်၊ လူများစွာတို့အား ထင်ရှားကြ
၅၄ ၏။- ယေရှုကိုစောင့်သောတပ်မှူးမှစ၍ စစ်သူရဲ
များတို့သည်မြေကြီးလှုပ်ခြင်းစသည်တို့ကိုမြင်
လျှင်၊ အလွန် ထိတ် လန့်၍၊ စင်စစ် ဤသူ သည်
ဘုရားသခင်၏သားတော်မှန်ပေ၏ ဟု ဆိုကြ၏။-
၅၅ ဂါလိလဲပြည်က ယေရှုနောက်တော်၌ အလုပ်အ
ကျွေးလိုက်လာသောမိန်းမအများတို့သည်ထည်း၊
၅၆ ထိုအရပ်၌အဝေးကကြည့်ရှု၍နေကြ၏။-ထိုမိန်း
မတို့တွင်မာဂဒလမာရိ၊ယာကုပ်နှင့်ယောသေတို့
၏အမိဖြစ်သောမာရိနှင့်ဇေဗေဒဲ၏သားတို့၏အ
မိပါကြသတည်း။
၅၇ ညအချိန်ရောက်မှအရိမသဲမြို့သား၊ယောသပ်
အမည် ရှိ သော သူဌေး သည် ယေရှု ၏ တပည့်
၅၈ တော်ဖြစ်သည်နှင့်၊-ပိလတ်မင်းထံသို့ဝင်၍ယေ
ရှု၏အလောင်းတော်ကို တောင်းလေ၏။ ပိလတ်
မင်းသည်အလောင်းတော်ကိုပေးစေခြင်းငှါ အ
၅၉ မိန့်တော်ရှိသော်၊- ယောသပ်သည် အလောင်း
တော်ကိုယူ၍၊ ဖြူစင်သောပိတ်ချောနှင့် ပတ်ရစ်
၆၀ ပြီးလျှင်၊- ကျောက်၌ ထွင်းသောမိမိသင်းချိုင်း
တွင်းသစ် ထဲ မှာ ထား လေ ၏။ ကြီး စွာ သော
ကျောက်ကိုလည်းတွင်းဝ၌လှိမ့်ထားပြီးမှသွား
၆၁ ၏။- မာဂဒလမာရိနှင့် အခြားသောမာရိသည်
ထိုအရပ်၌ သင်းချိုင်းတော်ရှေ့မှာထိုင်လျက်နေ
ရစ်ကြ၏။
၆၂ အဘိတ်နေ့လွန်၍နက်ဖန်နေ့ရောက်လျှင်၊ယဇ်
ပုရောဟိတ်အကြီးနှင့် ဖာရိရှဲတို့သည် ပိလတ်
၆၃ မင်းထံ၌စုဝေး၍၊- ထိုလှည့်ဖြားသောသူက၊ငါ
သည်သုံးရက်မြောက်သောနေ့၌ ထမြောက်မည်
ဟု၊ မသေမှီပြောသည်ကို အကျွန်ုပ်တို့ မှတ်မိပါ
၆၄ ပြီ။- ထို့ကြောင့်၊ သူ၏တပည့်တို့သည် ညအခါ
လာ၍အလောင်းကိုခိုးယူပြီးလျှင်၊ သူသည်သေ
ခြင်းမှ ထမြောက်တော်မူပြီဟု၊ လူ အပေါင်းတို့
အားပြောဆိုကြသော်၊ ရှေ့အမှားထက် နောက်
အမှားသာ၍ကြီးမည်ဟုစိုးရိမ်စရာအကြောင်း
ရှိသည် ဖြစ်၍၊ သင်း ချိုင်း တွင်း ကို သုံး ရက်
မြောက်အောင် လုံခြုံစွာ စောင့် စေ့သောငှါ အ
၆၅ မိန့် ရှိတော်မူပါဟု လျှောက် ကြလျှင်၊- ပိလတ်
မင်းက၊သင်တို့၌လူစောင့်တတပ်ရှိ၏၊ သွားကြ၊
တတ်နိုင်သမျှအတိုင်း လုံခြုံစွာ စောင့်စေကြဟု
၆၆ ဆိုလေ၏။- ထိုသူတို့သည် သွား၍ ကျောက်ကို

တံဆိပ်ခတ်ပြီးလျှင်၊ အစောင့်ထားလျက် သင်း
ချိုင်းတွင်းတော်ကိုလုံခြုံစွာပြုကြ၏။

၂၈

၁ ဥပုသ်နေ့လွန်၍ ရက်သတ္တပတ်တွင်ပဌမ နေ့ရက်
မိုးသောက်ထွန်းလင်းစအချိန်၌၊ မာဂဒလမာရိနှင့်
အခြားသောမာရိသည် သင်းချိုင်းတော်ကို အ
၂ ကြည့်အရှုသွားကြ၏။- ထိုအခါ မြေကြီးသည်
ပြင်းစွာ လှုပ်လေ၏။ အကြောင်းမူကား၊ ထာ
ဝရဘုရား၏ကောင်းကင်တမန်သည်ကောင်းကင်
ဘုံမှဆင်းလာ၍၊တွင်းဝ၌ပိတ်သောကျောက်ကို
လှိမ့်လှန်ပြီး လျှင်၊ ထိုကျောက်ပေါ်မှာ ထိုင်နေ
၃ ၏။-သူ၏မျက်နှာသည်လျှပ်စစ်ကဲ့သို့ထင်၏။အ
၄ ဝတ်သည်လည်းမိုးပွင့်ကဲ့သို့ဖြူ၏။- လူစောင့်
တို့သည်ကောင်းကင်တမန်ကိုကြောက်ရွံ့သဖြင့်
၅ တုန်လှုပ်၍သေမတတ်ဖြစ်ကြ၏။- ကောင်းကင်
တ မန် က လည်း၊ ကြောက် ရွံ့ ခြင်း မရှိ ကြ နှင့်၊
လက်ဝါးကပ်တိုင်မှာ သတ်သော ယေရှုကိုသင်
၆ တို့ရှာကြသည်ကိုငါသိ၏။- ဤအရပ်၌မရှိ၊ မိန့်
တော်မူသည်အတိုင်းထမြောက်တော်မူပြီ။ လာ
ကြ၊ သခင် လျောင်းတော်မူရာ အရပ်ကို ကြည့်
၇ ကြလော့။- အလျင်အမြန်ပြန်သွား၍၊သေခြင်း
မှထမြောက်တော်မူကြောင်းကို တပည့်တော်တို့
အား ပြောကြလော့။ သင်တို့ရှေ့၊ ဂါလိလဲပြည်
သို့ကြွ တော်မူမည်။ ထိုပြည်၌သင်တို့သည်ကိုယ်
တော်ကို တွေ့မြင်ရကြလိမ့်မည်၊ ငါ ပြောပြီဟု၊
၈ ထိုမိန်းမတို့အား ကောင်းကင်တမန် ဆို၏။- ထိုမိန်း
မတို့သည်လည်း ကြောက် ရွံ့သဖြင့် ၎င်း၊ အလွန်
ဝမ်း မြောက် သဖြင့် ၎င်း၊ သင်းချိုင်း တော်မှ အ
လျင်အမြန်သွား၍၊တပည့်တော်တို့အား ထိုသိ
တင်း စကား ကို ကြား ပြောခြင်းငှါ ပြေးကြ၏။-
၉ ထမ်းမှာသွားကြစဉ်၊ ယေရှုသည်ကြို ဆိုတော်
မူ၍၊သင်တို့အား မင်္ဂလာဖြစ်စေသတည်းဟုမိန့်
တော်မူ၏။ ထိုမိန်းမတို့သည် ချဉ်းကပ်၍ ခြေတော်
၁၀ ကိုဖက်ယမ်းလျက်ပြပ်ဝပ်ကိုးကွယ်ကြ၏။-ယေ
ရှုကလည်း၊ ကြောက် ရွံ့ခြင်းမရှိကြနှင့်၊ သွား
ကြလော့။ညီတို့သည်ဂါလိလဲပြည်သို့သွားစေ
ခြင်း ငှါ ဤ သိ တင်း စကား ကို ကြား ပြော ကြ
လော့။ ထိုပြည်၌ သူတို့သည်ငါကို တွေ့မြင်ရကြ
လိမ့်မည်ဟုမိန့် တော်မူ၏။
၁၁ ထိုမိန်းမတို့သည်သွားကြစဉ်အခါ လူစောင့်အ
ချို့တို့သည်မြို့ထဲသို့ဝင်၍၊ ဖြစ်လေသမျှသောအ
ခြင်းအရာတို့ကိုယဇ်ပုရောဟိတ်အကြီးတို့အား

၁၂ ပြန်ကြား ကြ၏။- ထိုအခါ ယဇ်ပုရောဟိတ်အကြီးတို့နှင့်
လူအကြီး အကဲတို့သည် စုဝေး၍ တိုင်ပင်ပြီးမှ၊
၁၃ စစ်သူရဲတို့အား ငွေအများကိုပေး၍၊- ညည့်အ
ခါ ငါတို့ အိပ်ပျော်စဉ်တွင်၊ ထိုသူ၏ တပည့်တို့
ထည်လာ၍ အလောင်းကို ခိုးသွားကြသည်ဟု
၁၄ သင်တို့ပြောကြလော့။- ထိုအကြောင်းကို မြို့ဝန်
မင်းကြားပြန်လျှင်၊ ငါတို့သည်သူကို ဖျောင်းဖျ
၁၅ ၍သင်တို့၌ အမှုမရှိစေခြင်းငှါပြုမည်ဟု၊- သူ
သင်သည်နှင့်အညီ၊စစ်သူရဲတို့သည်ငွေကိုယူ၍
ပြုကြ၏။ထိုစကားကိုယနေ့တိုင်အောင်ယုဒလူတို့
သည်အနှံ့အပြားပြောဆိုကြ၏။
၁၆ တကျိပ် တပါး သော တပည့်တော် တို့ သည်
ဂါလိလဲ ပြည်သို့ သွား၍၊ ယေရှု မှာထားတော်
မူ သော တောင် ပေါ်သို့ တက် ကြ လျှင်၊ ကိုယ်
၁၇ တော်ကိုတွေ့မြင်၍ ပြပ်ဝပ်ကိုးကွယ်ကြ၏။- အ
၁၈ ချို့တို့သည် ယုံမှားခြင်း ရှိ ကြ၏။- ယေရှု သည်
အနီးအပါး သို့ ချည်းတော် မူ ပြီးလျှင်၊ ကောင်း
ကင်ဘုံ၌ရင်၊ မြေကြီးပေါ်၌ရင် စီရင် ပိုင်သော
၁၉ အခွင့် တန်ခိုး ရှိသမျှတို့ကို ငါခံရပြီ။- သင်တို့
သွား၍ လူ မျိုး တကာ တို့ ကို င တပည့် ဖြစ် စေ
လျက်၊ ခမည်းတော်၊ သားတော်၊ သန့်ရှင်းသော
ဝိညာဉ်တော်၏ နာမ၌ နှစ်ခြင်းကိုပေးကြလော့။-
၂၀ ငါ သည် သင်တို့ အား ပေး သ မျှ သော ပညတ်
တော်တို့ကို စောင့်ရှောက် စေခြင်းငှါ ဆုံးမ ဩဝါ
ဒပေးကြလော့။ ငါသည်လည်း၊ ကပ်ကမ္ဘာကုန်
သည် တိုင် အောင် သင် တို့ နှင့် အတူ အစဉ် မ
ပြတ် ရှိ သည် ဟု၊ တ ပည့် တော် တို့ အား မိန့်
တော်မူ၏။

ရှင်မဿဲခရစ်ဝင်ပြီး၏။

---

# ရှင်မာကုခရစ်ဝင်။

## MARK.

၁

၁ ဘုရားသခင် သားတော်ယေရှုခရစ်၏ ဧဝံဂေ
၂ လိတရား၏အစကို ဆိုပေအံ့။- အနာဂတ္တိကျမ်း
စာ၌လာသည်ကား၊ ကြည့်ရှုလော့၊ သင်သွား
ရာလမ်းကိုပြင်ရသောငါ၏တမန်ကိုသင့်ရှေ့၌ငါ
၃ စေလွှတ်၏။- တော၌ဟစ်ကြော်သောသူ၏အသံ
မှာ၊ထာဝရဘုရားကြွတော်မူရာလမ်းကို ပြင်ကြ
လော့၊ လမ်းခရီးတော်ကိုဖြောင့်စေကြလော့ဟု
၄ လာသည်နှင့်အညီ၊-ယောဟန်သည်တော၌နှစ်
ခြင်းကို ပေးလျက်၊ အပြစ် လွှတ်ခြင်းအမှုအလို
ငှါ နောင်တနှင့်စပ်ဆိုင်သော နှစ်ခြင်း တရားကို
၅ ဟောလျက်ပေါ်ထွန်း၏။- ယေရုရှလင် မြို့သား
များမှစ၍၊ ယုဒပြည်သူ ပြည်သား အပေါင်းတို့
သည်၊ ယောဟန်ထံသို့ ထွက် သွား၍ မိမိ တို့အ
ပြစ်များကိုဖော်ပြလျက်၊ယော်ဒန်မြစ်၌နှစ်ခြင်း
၆ ကို ခံကြ၏။- ယောဟန်သည် ကုလားအုတ်အ
မွေးနှင့် ရက်သောအဝတ်ကို ဝတ်လျက်၊ ခါး၌
သားရေခါးပန်းကို စည်းလျက်၊ ကျိုင်းကောင်နှင့်
တော၌ ဖြစ်သော ပျားရည်ကို စားလျက် နေ၏။-
၇ ဟောချက် စကားဟူမူကား၊ ငါထက်တတ် စွမ်း
နိုင်သော သူသည် ငါနောက် ကြွလာ၏။ ထိုသူ၏
ခြေနင်း တော် ကြိုး ကိုမျှ ငုံ့၍ ဖြည် ခြင်းငှါ ငါမ
၈ ထိုက်။- ငါသည် သင်တို့အား ရေ၌ နှစ်ခြင်းကို
ပေး၏။ ထိုသူသည်သန့်ရှင်းသောဝိညာဉ်တော်
၌သင်တို့ကိုနှစ်တော်မူမည်ဟုဟောသတည်း။
၉ ထိုအခါ ယေရှုသည် ဂါလိလဲပြည် နာဇရက်
မြို့မှကြွလာ၍ယောဟန်ထက်ဖြင့် ယော်ဒန်မြစ်၌
၁၀ နှစ်ခြင်းကိုခံတော် မူ ၏။- ရေမှ ပေါ်ထစဉ်တွင်
ကောင်းကင်ကွဲ၍ ဝိညာဉ်တော်သည်ချိုးငှက်ကဲ့
သို့ကိုယ်တော် အပေါ်၌ဆင်းသက်တော်မူသည်
၁၁ ကိုမြင်ရ၍၊- သင်ကား၊ ငါနှစ်သက် မြတ်နိုးရာ
ငါ၏ ချစ်သား ပေတည်း ဟု၊ ကောင်းကင်က အ
၁၂ သံတော်ဖြစ်လေ၏။- ထိုခဏချင်းတွင်၊ ဝိညာဉ်
တော် သည် ယေရှုကို တောသို့ သွား စေ တော် မူ

၁၃ ၏။- အရက်လေးဆယ်ပတ်လုံး ထိုတော၌ နေ၍
စာတန်၏ စုံစမ်းနှောင့်ယှက်ခြင်းကို ခံတော်မူ၏၊
သားရဲတို့နှင့် အတူ ရှိတော်မူ၏၊ ကောင်းကင်တ
၁၄ မန်တို့သည်လည်း လုပ်ကျွေးကြ၏။- ယောဟန်
သည် ထောင်ထဲသို့ရောက်ပြီးနောက်၊ ယေရှု
၁၅ သည် ဂါလိလဲပြည်သို့ကြွတော်မူလျှင်၊- အချိန်
ပြည့်စုံပြီ၊ ဘုရားသခင်၏နိုင်ငံတော်သည်တည်
လုနီးပြီ၊ နောင်တရကြလော့၊ ဧဝံဂေလိတရားကို
ယုံကြည်ကြလော့ဟု ဘုရားသခင်၏ နိုင်ငံ
တော် နှင့် ဆိုင်သော ဧဝံဂေလိ တရားကို ဟော
တော်မူ၏။

၁၆ ဂါလိလဲအိုင်နားမှာ ကြွတော်မူစဉ်၊ ရှိမုန်နှင့်
အန္ဒြေ ညီအစ်ကိုနှစ်ယောက်သည် တံငါဖြစ်၍၊
အိုင်တွင်ပိုက်ကွန်ဖြန့်စဉ်ကိုမြင်တော်မူလျှင်၊-
၁၇ ထိုသူတို့အား၊ ငါ့နောက်သို့လိုက်ကြလော့၊ သင်
တို့သည် လူကို မျှားသော တံငါ ဖြစ်စေခြင်းငှါ
၁၈ ငါပြုမည်ဟု အမိန့်တော်ရှိသော်၊- ထိုသူတို့သည်
ချက်ချင်းပိုက်ကွန်ကို စွန့်ပစ်၍ နောက်တော်သို့
၁၉ လိုက်ကြ၏။- ထိုမှ အနည်းငယ် လွန်ပြန်လျှင်၊
ဇေဗေဒဲ၏သား၊ ယာကုပ်နှင့်ယောဟန်ညီအစ်
ကိုနှစ်ယောက် တို့သည် လှေပေါ်မှာ ပိုက်ကွန်
ပြင်နေသည်ကို မြင်၍ ချက်ချင်း ခေါ်တော် မူ၏။-
၂၀ ထိုသူ တို့သည်လည်း လှေပေါ်မှာရှိသော သူငှါး
တို့နှင့် တကွ အဘ ဇေဗေဒဲကို စွန့်ပစ်၍ နောက်
တော်သို့လိုက်ကြ၏။

၂၁ ကပေရနောင်မြို့သို့သွားကြလျှင်၊ ဥပုသ်နေ့၌
ကိုယ်တော်သည်ချက်ချင်း တရားစရပ်သို့ ဝင်၍
၂၂ ဆုံးမဩဝါဒပေးတော်မူ၏။-ပရိသတ်တို့သည်
လည်း၊ ဆုံးမဩဝါဒပေးတော်မူခြင်းကို အံ့သြ
ကြကြ၏၊ အကြောင်းမူကား၊ ကျမ်းပြုဆရာ
နည်းတူမဟုတ်၊ အခွင့်ရသော သူနည်းတူ ဆုံးမ
၂၃ ဩဝါဒပေးတော်မူ၏။- ထိုသူတို့၏တရားစရပ်
၂၄ ၌ညစ်ညူးသောနတ်စွဲသောသူရှိ၍၊-အိုနာဇ
ရက်မြို့သား ယေရှု၊ ကိုယ်တော်သည် အကျွန်ုပ်
တို့နှင့် အဘယ်သို့ဆိုင်သနည်း၊ အကျွန်ုပ်တို့ကို
ဖျက်ဆီးခြင်းငှါလာသလော၊ ကိုယ်တော်သည်
အဘယ်သူဖြစ်သည်ကိုအကျွန်ုပ်သိပါ၏၊ဘုရား
သခင်၏ သန့်ရှင်းတော်မူသောသူဖြစ်ပါသည်ဟု
၂၅ ထိကြော်သေ၏။- ယေရှုကလည်း၊ တိတ်ဆိတ်
စွာနေလော့၊ ထိုသူ၏ အထဲက ထွက်သွားလော့
၂၆ ဟု ဆုံးမတော်မူလျှင်၊- ညစ်ညူးသော နတ်သည်
ထိုသူကို တွန့်လိမ်စေပြီးမှ၊ ကြီးသော အသံနှင့်

၂၇ အော်ဟစ်၍ ထွက်သွား၏။- လူအပေါင်းတို့သည်
မိန်းမောတွေဝေ၍၊ ဤအမှုသည် အဘယ်သို့
နည်း၊ ဤဆုံးမခြင်းအသစ်သည်အဘယ်သို့နည်း၊
ညစ်ညူးသောနတ်တို့ကိုပင် အာဏာနှင့်မှာထား
၍၊ ထိုသူတို့သည် နားထောင်ကြသည်တကားဟု
၂၈ အချင်းချင်းမေးမြန်းပြောဆိုကြ၏။- ထိုအခါ
တော်သည်လည်း၊ ဂါလိလဲပြည်အရပ်ရပ်တို့၌
ချက်ချင်းနှံ့ပြားကျော်စောလေ၏။

၂၉ တရားစရပ်မှ ထွက်ကြလျှင်၊ ရှိမုန်၊ အန္ဒြေတို့
အိမ်သို့ ယာကုပ်၊ ယောဟန်နှင့် တကွ ချက်ချင်း
၃၀ သွားကြ၏။- ရှိမုန်၏ယောက္ခမသည်ဖျားနာ၍
လဲလျက်နေသည် အကြောင်းကို အလျင် အမြန်
၃၁ လျှောက်ကြ၏။- ကိုယ်တော်သည်ထသွား၍ထိုမိန်း
မ၏ လက်ကို ကိုင်လျက် ချီကြွတော်မူသည်။ ချက်
ချင်းတွင်၊ ထိုသူသည် အဖျားပျောက်၍ ပြုစုသည်
ဝတ်ကို ပြုလေ၏။

၃၂ နေဝင်၍ ညအချိန်ရောက်လျှင်၊ မကျန်းမမာ
သောသူနှင့် နတ်ဆိုးစွဲသော သူရှိသမျှတို့ကို အ
၃၃ ထံတော်သို့ ဆောင်ခဲ့၍၊- တမြို့လုံးသည် တံခါး
၃၄ နားမှာစုဝေးလျက်ရှိကြ၏။- အထူးထူး အပြား
ပြားသော အနာစွဲသော သူများတို့ကို ထက်ထာ
စေတော်မူ၏၊နတ်ဆိုးများတို့ကိုလည်းနှင်ထုတ်
တော်မူ၏၊ နတ်ဆိုး တို့သည် ကိုယ် တော်ကို သိ
ကြသော ကြောင့်၊ စကား တ ခွန်း ကိုမျှ ပြောစေ
ခြင်းငှါ အခွင့်ပေးတော်မမူ။

၃၅ နံနက်အချိန်၊မိုးသောက်မထင်းမီကိုယ်တော်သည်
ထ ပြီး လျှင်၊ တော အရပ် သို့ ထွက် ကြွ၍ ဆု
၃၆ တောင်းတော်မူ၏။- ရှိမုန်နှင့်သူ၏အပေါင်းအ
၃၇ ဖော်တို့သည်လိုက်၍ရှာကြသော်၊- ကိုယ်တော်
ကိုတွေ့လျှင်၊ လူ အပေါင်း တို့သည် ကိုယ်တော်
၃၈ ကိုရှာကြပါသည်ဟုလျှောက်ဆို၏။-ကိုယ်တော်
ကလည်း၊ ငါသည်နီးစပ်သော မြို့ရွာတို့၌ တရား
ဟောခြင်းငှါ သွားကြကုန်အံ့၊ ထိုသို့အလိုငှါ ငါ
၃၉ ကြွလာပြီဟုမိန့်တော်မူ၍၊- ဂါလိလဲပြည်အရပ်
ရပ် တရားစရပ်တို့၌ တရားဟောလျက်၊ နတ်ဆိုး
တို့ကိုနှင်ထုတ်လျက်နေတော်မူ၏။

၄၀ နူနာစွဲသော သူတယောက်သည် အထံတော်
သို့လာ၍ ဒူးထောက်လျက်၊ ကိုယ် တော် အလို
ရှိလျှင် ကျွန်တော် ကို သန့်ရှင်း စေ နိုင် တော် မူ
၄၁ သည်ဟုတောင်းပန်လေ၏။- ယေရှုသည်သနား
သောစိတ်ရှိသဖြင့် လက်တော်ကို ဆန့်၍ ထိုသူ
ကို ထိလျက်၊ ငါ အလိုရှိ၏၊ သန့် ရှင်း ခြင်း သို့

၄၂ ရောက်စေလော့ မိန့်တော်မူ၏။- ထိုသို့ မိန့်တော်မူ
သည်စကားချင်းတွင်နူနာပျောက်၍ သန့်ရှင်းခြင်း၊
၄၃ သို့ရောက်လေ၏။- ယေရှုကလည်း၊ သင်သတိ
၄၄ ပြု၊- အဘယ်သူအားစကားတခွန်းကိုမျှမပြော
နှင့်၊ ထိုပုရောဟိတ်ထံသို့ သွား၍ ကိုယ်ကိုပြ
လော့၊ သူတို့အားသက်သေဖြစ်စေခြင်းငှါ သန့်
ရှင်းခြင်းနှင့်ဆိုင်သည်အတွက်၊ မောရှေစီရင်
ထားသော ပူဇော်သက္ကာကို ဆက်လော့ဟု
၄၅ ခြိမ်းခြောက်၍၊ ချက်ချင်းလွှတ်လိုက်တော်မူ၏။- ထို
သူသည်ထွက်သွား၍ စကားများစွာသောအားဖြင့်၊
ထိုအကြောင်းကို အနှံ့အပြား ကျော်စောစေ၏၊
ထိုကြောင့်၊ ကိုယ်တော်သည်နောက်တဖန် မြို့ထဲ
သို့ ထင်ရှားစွာမဝင်ရဘဲ၊ မြို့ပြင်၊ တော ဆိတ်ညံ
သောအရပ်၌ နေတော်မူ၍ အရပ်ရပ်တို့မှ အထံတော်သို့
ရောက်လာကြ၏။

၂

၁ နောက်တနေ့ထဲ၌ ကိုယ်တော်သည် ကပေရ
နောင်မြို့သို့ ဝင်ပြန်၍ အိမ်၌ ရှိတော်မူသည်ကို
၂ ကြားကြလျှင်၊- တံခါးပြင်နား၌သော်မှ နေရာမရှိနိုင်
အောင်၊ လူများတို့သည် အလျင်အမြန် စုဝေးကြ
သည်ဖြစ်၍၊ သူတို့အားတရားဟောတော်မူ၏။-
၃ ထိုအခါ လက်ခြေသေသော သူတယောက်ကို လူ
လေးယောက် ထမ်း၍ အထံ တော်သို့
၄ ဆောင်ခဲ့ကြ၏။- လူစုဝေးသောကြောင့်
ကိုယ်တော်ရင်းသို့ မချဉ်းကပ်နိုင်သဖြင့်၊ ကိုယ်
တော်ရှိရာ အိမ်မိုးကို ဖောက်ထွင်း၍ ပြီးမှ
လူနာနှင့်တကွ အိပ်ရာစုထင်ကို လျှော့ချကြ၏။-
၅ ယေရှုသည် ထိုသူတို့၏ယုံကြည်ခြင်းကိုမြင်လျှင်၊
လက်ခြေ သေသော သူအား၊ ငါ့သား သင်၏ အ
၆ ပြစ်ကိုလွှတ်စေပြီဟုမိန့်တော်မူ၏။- ထိုအရပ်၌
၇ ထိုင်သော ကျမ်းပြုဆရာအချို့တို့က၊ ဤသူသည်
ဘုရားကို သွန်ကျူး၍ အဘယ် ကြောင့် ဤသို့
ပြောရသနည်း၊ ဘုရားသခင်မှတပါး၊ အဘယ်
သူသည် အပြစ်ကို လွှတ်နိုင်သနည်းဟု စိတ်ထဲ
၈ မှာထင်မှတ်ကြ၏။- သူတို့စိတ်ထဲမှာ ထိုသို့ထင်
မှတ်ခြင်းရှိသည်ကို ယေရှုသည် မိမိဝိညာဉ်အား
ဖြင့်ချက်ချင်းသိတော်မူလျှင်၊ သင်တို့စိတ်ထဲမှာ
အဘယ်ကြောင့် ဤသို့ ထင်မှတ် ကြသနည်း။-
၉ လက်ခြေ သေသော သူအား အဘယ် စကားကို
သာ၍ပြောလွယ်သနည်း၊ သင်၏အပြစ်ကိုလွှတ်
ပေပြီဟု ပြော လွယ် သလော၊ သင် ထလော့၊
ကိုယ်အိပ်ရာကို ဆောင်၍ လှမ်းသွားလော့ဟု

၁၀ ပြောလွယ်သလော။- လူသားသည်မြေကြီးပေါ်
၁၁ မှာ အပြစ်လွှတ်ပိုင်သည်ကို သင်တို့သိစေခြင်းငှါ၊
သင်ထလော့၊ ကိုယ်အိပ်ရာကိုဆောင်၍ ကိုယ်အိမ်
သို့သွားလော့ဟု ငါဆိုသည်ဟု၊ လက်
၁၂ ခြေသေသောသူအား မိန့်တော်မူ၏။- ထိုသူသည်
လည်းချက်ချင်းထ၍ အိပ်ရာကိုဆောင်လျက်၊ လူ
အပေါင်းတို့ရှေ့မှာ ထွက်သွား၏၊ ထိုလူအပေါင်း
တို့သည် မိန်းမော တွေဝေခြင်းရှိ၍၊ ဤကဲ့သို့တ
ခါမျှမမြင်စဖူးဟုပြောဆို၍၊ ဘုရားသခင်၏ဂုဏ်
တော်ကိုချီးမွမ်းကြ၏။
၁၃ နောက်တဖန် ပင်လယ်နားသို့ကြွတော်မူ၍၊ လူအ
ပေါင်းတို့သည် အထံတော်သို့ လာ
ကြလျှင်၊ သူတို့အားဆုံးမဩဝါဒ ပေးတော်မူ၏။-
၁၄ ထိုမှကြွတော်မူစဉ်၊ အာလဖဲ၏သား လေဝိ
သည်အခွန်ခံရာတဲ၌ ထိုင်နေသည်ကိုမြင်တော်၊
၁၅ ငါ့နောက်သို့လိုက်လော့ဟု မိန့်တော်မူ၏။- ထိုသူ
သည်လည်း၊ ထ၍ နောက်တော်သို့ လိုက်လေ၏၊
ထိုနောက်မှ သူ၏အိမ်တွင် စားပွဲ၌လျောင်းတော်
မူစဉ်၊ အခွန်ခံသော သူများနှင့် ဒုစရိုက်သောသူများ
တို့သည်၊ ကိုယ်တော်မှစသော တပည့်တော်တို့
နှင့်တကွ စားပွဲ၌လျောင်းကြ၏၊ ထိုသူအများတို့
၁၆ သည်နောက်တော်သို့လိုက်ကြ၏။- ထိုသို့ အခွန်
ခံသောသူ၊ ဒုစရိုက်သောသူတို့နှင့်အတူ စားတော်မူ
သည်ကို ကျမ်းပြုဆရာ၊ ဖာရိရှဲတို့သည်မြင်လျှင်၊
ဤသူသည် အခွန်ခံသောသူ၊ ဒုစရိုက်သောသူတို့နှင့်
အတူ အဘယ်ကြောင့် စား သောက် သနည်းဟု
၁၇ တပည့်တော်တို့ အား ဆိုကြ၏။- ယေရှု သည်
ကြား တော် မူလျှင်၊ ကျန်းမာသော သူတို့ သည်
ဆေးသမားကို အလိုမရှိကြ၊ နာသော သူတို့သာ
လျှင် အလိုရှိကြ၏၊ ဖြောင့်မတ်သော သူတို့ ကို
နောင်တသို့ခေါ်ခြင်းငှါငါလာသည်မဟုတ်၊ ဒုစရိုက်
သောသူတို့ကို ခေါ်ခြင်းငှါ ငါလာ သတည်းဟု
မိန့်တော်မူ၏။
၁၈ အစာရှောင်တတ်သော ယောဟန်၏ တပည့်
တို့နှင့် ဖာရိရှဲ တို့ သည် လာ၍၊ ယောဟန်၏ တ
ပည့်တို့နှင့်ဖာရိရှဲတို့သည်အစာရှောင်ကြသည်
ဖြစ်၍၊ အဘယ်ကြောင့်ကိုယ်တော်၏ တပည့်တို့
သည် အစာ မရှောင် ဘဲ နေကြ ပါ သနည်းဟု
၁၉ လျှောက်ကြ၏။- ယေရှုကလည်း၊ မင်္ဂလာဆောင်
သတို့သားသည် မိမိအပေါင်းအဖော်တို့နှင့်အတူရှိ
စဉ်အခါ၊ သူတို့သည် အစာ ရှောင် ထိုက်ကြ
သလော၊ ရှိစဉ်ကာလပတ်လုံး အစာမရှောင်ထိုက်

၂၀ ကြ၏– မင်္ဂလာဆောင်လုလင်ကိုသူတို့အပေါင်းအ
ဖော်ထိုနှင့် ခွာ၍ ယူသွားသော အချိန် ကာလ
ရောက်လိမ့်မည်။ ထိုကာလအခါသူတို့သည်အ
၂၁ စာရှောင်ကြလိမ့်မည်။– အဝတ်ဟောင်းကို အ
ထည်သစ်နှင့်ဖာလေ့မရှိ။ ထိုသို့ဖာလျှင်ဖာသော
အထည်သစ်သည် အဝတ်ဟောင်းကို စား၍ အ
၂၂ ပေါက်ကျယ်တတ်၏– ၎င်နည်း၊ ဟောင်းသော
သားရေအိုး၌ အသစ်သော စပျစ်ရည်ကို ထည့်
လေ့မရှိ။ ထိုသို့ထည့်လျှင်အသစ်သောစပျစ်ရည်
သည်ဟောင်းသားရေအိုးကို ဆုတ်ခွဲသဖြင့်၊ စပျစ်ရည်
သည်ယို၍သားရေအိုးသည်ပျက်စီးတတ်၏။ အ
သစ်သောစပျစ်ရည်ကိုအသစ်သောသားရေအိုး
၌ထည့်ရသည်ဟုမိန့်တော်မူ၏။
၂၃ ဥပုသ်နေ့၌ ကိုယ်တော် သည် ဂျုံစပါး လယ်
ကွက် ထဲ ကို ရှောက် ကြွ တော် မူ လျှင်၊ တ ပည့်
တော်တို့သည် စပါးအသီးအနှံ ကို ချိုး ဆွတ် လျက်
၂၄ ခရီးသွားကြ၏– ဖာရိရှဲတို့ကလည်း၊ ဥပုသ်နေ့
၌မပြုအပ်သောအမှုကိုသူတို့သည် ပြုကြပါသည်
၂၅ တကားဟု လျှောက်ကြသော်၊– ကိုယ်တော်က၊
ယဇ်ပုရောဟိတ်မင်းအဗျာသာလက်ထက်၌၊ ဒါ
ဝိဒ် သည် မိမိ အဖော် တို့နှင့် တကွ ဆာမွတ်၍ မ
၂၆ တတ်နိုင်သောအခါ၊– ဘုရားသခင်၏ အိမ်တော်
သို့ဝင်၍၊ ယဇ်ပုရောဟိတ်တို့မှတပါး၊ အခြား
သူမျှမစားအပ်သော ရှေ့တော်မုန့်ကိုစား၍၊ မိမိ
အဖော်တို့အား ပေးသည်အကြောင်းကို သင်တို့
၂၇ သည် တခါ တခါ မျှ မဖတ် ဘူး သလော။– ထိုမှ
တပါး၊ ဥပုသ်နေ့သည် လူအဖို့ဖြစ်၏၊ လူသည်
၂၈ ဥပုသ် နေ့ အဖို့ ဖြစ် သည် မ ဟုတ်။– သို့ဖြစ်၍၊
လူသား သည် ဥပုသ်နေ့ ကိုပင် အစိုးရသည်ဟု
မိန့်တော်မူ၏။

၃

၃ တဖန် တရားဇရပ်သို့ ဝင်တော်မူ၍၊ ထို ဇရပ်
၌ လက် တစ် ဘက် သေ သော သူ တယောက်ရှိ၏။–
၂ ဥပုသ်နေ့၌ သူ၏ရောဂါကိုငြိမ်းစေမည်၊ မငြိမ်း
စေမည်ကို၊ ထိုသူတို့သည် ကိုယ်တော်၌ အပြစ်
၃ ထင်ခွင့်ကိုရှာ၍စောင့်ကြည့်ကြ၏။–ကိုယ်တော်
ကလည်း၊ အလယ်၌မတ်တတ်နေလော့ဟု၊ လက်
တ ဘက် သေ သော သူ အား မိန့် တော် မူ ပြီး မှ၊–
၄ ဥပုသ်နေ့၌ ကောင်းမှုပြုအပ်သလော၊ သူအကျိုး
ကိုဖျက်ဆီးအပ်သလော၊ အသက်ကိုကယ်အပ်
သလော၊ သတ် အပ် သ လောဟု ပရိသတ် တို့
အား မေးတော်မူလျှင်၊ ထိုသူတို့သည်တိတ်ဆိတ်
၅ စွာနေကြ၏– ထိုအခါ အမျက်တော်နှင့် သူတို့ကို
ပတ်လည် ကြည့်ရှု၍၊ သူတို့ စိတ် နှလုံး မိုက်
သော ကြောင့် ဝမ်း နည်း တော် မူခြင်း ရှိ လျက်၊
သင်၏လက်ကိုဆန့်လော့ဟုထိုသူအားမိန့်တော်
မူ၍၊ သူသည် မိမိ လက် ကို ဆန့် လျှင်၊ ထိုလက်
၆ သည်လက်တဘက်ကဲ့သို့ ပကတိဖြစ်လေ၏– ထို
အခါဖာရိရှဲတို့သည် ထွက်၍၊ ကိုယ်တော်ကိုအ
သက်သို့ ဖျက်ဆီးရအံ့နည်းဟု၊ ဟေရုဒ်အပည့်
တို့နှင့်ချက်ချင်းတိုင်ပင်ကြ၏။
၇ ယေရှုသည်တပည့်တော်တို့နှင့်အတူ အိုင်နား
၈ သို့ပြောင်းကြွတော်မူ၍၊ ဂါလိလဲပြည်၊– ယေရုရှ
လင်မြို့မှစသောယုဒပြည်၊ ဣဒုမဲပြည်၊ ယော်ဒန်
မြစ်တဘက်မှ လာကြ သော လူ များ အပေါင်းတို့
နှင့်၊ တုရုမြို့၊ ဇိဒုန်မြို့ပတ်ဝန်းကျင်အရပ်တို့မှလာ
ကြသောလူများအပေါင်းတို့သည်၊ ပြုတော်မူသော
၉ အမှုကို ကြားလျှင်အထံတော်သို့ လာကြ၏။– လူ
များတို့သည် ကိုယ်တော်ကို ဝန်းရံ၍ မထိမိစေ
စေမည်အကြောင်း၊ ကိုယ်တော်၏ အနီး အပါး
တွင် လှေ တစင်းကို အမြဲ ရှိစေခြင်းငှါ၊ တပည့်
၁၀ တော်တို့အား အမိန့် တော် ရှိ၏– အကြောင်းမူ
ကား၊ လူများတို့အား ချမ်းသာပေးတော်မူသော
ကြောင့်၊ ရောဂါဝေဒနာနှိပ်စက်သော သူရှိသမျှတို့
၁၁ သည်ကိုယ်တော်ကိုထိခြင်းငှါတွန်းကြ၏။–ညစ်
ညူးသောနတ်တို့သည်လည်း ကိုယ်တော်ကိုမြင်
သောအခါ ပြပ်ဝပ်၍၊ ကိုယ်တော်သည် ဘုရား
သခင်၏ သားတော် ဖြစ် တော် မူ သည်ဟု ဟစ်
၁၂ ကြော်ကြ၏– ထိုတင်းတော်ကို မဖွင့်စေမည် အ
ကြောင်း၊ သူ တို့ အား ခြိမ်း ခြောက်၍ ပညတ်
တော်မူ၏။
၁၃ ထို အ ခါ ကိုယ် တော် သည် တောင် ပေါ်သို့
တက်၍၊ အလိုတော်ရှိသောသူတို့ကို ခေါ်တော်
၁၄ မူလျှင်၊ အထံတော်သို့လာကြ၏–ကိုယ်တော်နှင့်
အတူ ရှိနေစေခြင်းငှါလည်း၊ တရားဟောသော အ
၁၅ ခွင့်၊ အနာရောဂါတို့ကို ငြိမ်းစေ၍၊– နတ်ဆိုးတို့
ကိုနှင်ထုတ် နိုင်သောအခွင့် နှင့် စေလွှတ်ခြင်းငှါ
၎င်၊ တကျိပ်နှစ်ပါးသော သူတည်း။ ယုဒသော–
၁၆ ပေတရုအမည်သစ်ကို ပေးတော်မူသောရှိမုန်၊–
၁၇ မိုဃ်းကြိုးသားဟု ဆိုလိုသော ဗောနေရဂေအ
မည်သစ်ကို ပေး တော်မူသော ဇေဗေဒဲ၏ သား
၁၈ နှစ် ယောက် ယာကုပ် နှင့် ယောဟန်၊– အန္ဒြေ၊
ဖိလိပ္ပု၊ ဗာသောလမဲ၊ မဿဲ၊ သောမ၊ အာလဖဲ
၁၉ ၏သားယာကုပ်၊ သဒ္ဒဲ၊ ကာနနိတ်လူရှိမုန်၊– ကိုယ်ကို

တော်ကို အပ်နှံသော ယုဒရှကာရုတ်ကို ခန့်
ထားတော်မူ၏။
၂၀ ထိုသူတို့သည်အိမ်သို့ဝင်ကြလျှင်၊ အစာကိုမ
စားနိုင်သည် တိုင်အောင်လူများတို့သည်တဖန်
၂၁ စုဝေးကြပြန်၏။-ကိုယ်တော်၏ အဆွေအမျိုးတို့
သည်ကြားလျှင်၊ သူသည်အရူးဖြစ်၏ဟု ဆို၍၊
ကိုယ်တော်ကိုဖမ်းဆီးခြင်းငှါထွက်သွားကြ၏။-
၂၂ ယေရုရှလင်မြို့မှ လာသော ကျမ်းပြုဆရာတို့က
လည်း၊ သူသည်ဗေလဇေဗုလစွဲသောသူဖြစ်၏၊
နတ်ဆိုးမင်းကိုအမှီပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်
၂၃ သည်ဟု ဆိုကြ၏။- ကိုယ်တော်သည်သူတို့ကို
ခေါ်၍ ဥပမာကို ဆောင်တော်မူလျက်၊ စာတန်
သည် စာတန်ကို အဘယ်သို့ နှင်ထုတ် နိုင်သ
၂၄ နည်း။- တိုင်းနိုင်ငံသည် မိမိနှင့်မသင့်မတင့်ကွဲ
၂၅ ပြားလျှင် မတည်နိုင်ရာ၊- အိမ်သည်လည်းမိမိ
၂၆ နှင့်မသင့်မတင့်ကွဲပြားလျှင်မတည်နိုင်ရာ။- စာ
တန်သည် မိမိတဖက်၌ ထ၍မိမိနှင့်မသင့်မတင့်
ကွဲပြားလျှင်၊ မတည်နိုင်ဘဲဆုံးခြင်းသို့ ရောက်
၂၇ လိမ့်မည်။-သူရဲကိုရှေဦးစွာမချည်မနှောင်လျှင်၊
သူ၏အိမ်သို့ဝင်၍ သူ၏ဥစ္စာကို အဘယ်သူမျှမ
လုမယူနိုင်၊ သူရဲကို ချည်နှောင်ပြီးမှသူ၏ အိမ်
၂၈ ကိုလုယူနိုင်၏။-ငါအမှန်ဆိုသည်ကား၊ ဖြစ်မှား
သော အပြစ်အမျိုးမျိုး၊ ဘုရားကို ကဲ့ရဲ့သောအ
ပြစ်အမျိုးမျိုးမှ သူမျှတို့နှင့် လွတ်စေခြင်း အခွင့်
၂၉ ကိုလူသားတို့သည်ရနိုင်ကြ၏။- သန့်ရှင်းသော
ဝိညာဉ်တော်ကိုကဲ့ရဲ့သောသူသည်အပြစ်လွတ်
ခြင်းအခွင့်ကိုအဘယ်ကာလ၌မျှမရနိုင်ကြ၊
ထာဝရ အပြစ်ဒဏ်ကို ခံရသောသူဖြစ်ပေ၏ဟု
၃၀ မိန့်တော်မူ၏။- အဘယ်ကြောင့် ဤသို့ မိန့်တော်
မူသနည်းဟုမူကား၊ ကိုယ်တော်သည် ညစ်ညူး
သော နတ်စွဲသော သူ ဖြစ်သည် ဟု ဆိုကြသ
တည်း။
၃၁ ထိုအခါ မယ်တော်နှင့် ညီတော်တို့သည် လာ
၍ပြင်မှာ ရပ်နေလျက်၊ တနုံးယောက်သောသူ
၃၂ ကိုကိုယ်တော်ထံသို့စေလွှတ်၍ခေါ်ကြ၏။-ခြံရံ
လျက်ထိုင်သောလူများတို့က၊ မယ်တော်နှင့်ညီ
တော်တို့သည် ကိုယ်တော်ကိုရှာလျက် ပြင်မှာရှိ
၃၃ ကြပါ၏ဟုလျှောက်လျှင်။- ကိုယ်တော်က၊ ငါ့အ
မိ၊ ငါ့ညီကား၊ အဘယ်သူနည်းဟုမေးတော်မူ၍၊-
၃၄ ခြံရံလျက်ထိုင်သော လူတို့ကို ပတ်လည်ကြည့်ရှု
၍၊ ဤသူတို့သည်ငါ့အမိ၊ ငါ့ညီပေတည်း။- ဘုရား
သခင်၏ အလိုတော်ကို ဆောင်သောသူသည် ငါ

ညီ၊ ငါ့နှမ၊ ငါ့အမိဖြစ်သတည်းဟု မိန့်တော်မူ၏။
၄
၁ နောက် တစ်ဖန် အိုင် နားမှာ ဆုံးမ ဩဝါဒ ပေး
တော်မူစည်တွင်၊ များစွာသော လူအပေါင်း တို့
သည်အထံတော်၌စုဝေးကြသောကြောင့်၊ အိုင်
တွင်လှေထဲသို့ ဝင်၍ ထိုင်တော်မူ၏၊ ပရိသတ်
အပေါင်းတို့သည် အိုင်နား၊ ကုန်းပေါ်မှာ နေကြ
၂ ၏။-ထိုအခါဥပမာစကားအားဖြင့်များစွာသော
ဆုံးမဩဝါဒကိုပေး၍ ဟောဆိုတော်မူသည်မှာ၊-
၃ နားထောင် ကြလော့၊ မျိုးစေ့ ကြဲသော သူသည်
၄ မျိုးစေ့ကိုကြဲခြင်းငှါထွက်သွား၏။- အစေ့ကိုကြဲ
သည်တွင် အချို့သောအစေ့တို့သည်ထမ်းနား၌ ကျ
သဖြင့်၊ မိုးယံငှက်ကောင်ငှက်တို့သည် လာ၍
၅ ကောက်စားကြ၏။- အချို့သော အစေ့ တို့သည်
မြေနည်း၍ ကျောက်ပေါ်များသော အရပ်၌ ကျ
သဖြင့်၊ မြေ တိမ် သောကြောင့် ချက်ချင်း အပင်
၆ ပေါက် သော် လည်း၊- နေထွက် သော အ ခါ ပူ
လောင်သည်ဖြစ်၍၊ အမြစ်မရှိသောကြောင့်ညှိုး
၇ နွမ်းပျက်စီးခြင်းသို့ရောက်ကြ၏။- အချို့သော
အစေ့တို့သည် ဆူးပင်တို့တွင်ကျသဖြင့်၊ ဆူးပင်
တို့သည် ကြီးပွား၍ ပွည်းဆဲ သောကြောင့် အ
၈ သီးမသီးကြ၊-အချို့သောအစေ့တို့သည်ကောင်း
သောမြေ၌ ကျသဖြင့်၊ အပင်ပေါက်၍ ကြီးပွား
လျက်အဆသုံးဆယ်၊ အဆခြောက်ဆယ်၊ အဆ
၉ တရာပွားများ၍အသီးသီးကြ၏။-ကြားစရာနား
ရှိသော သူမည်သည်ကား ကြားပါစေဟု မိန့်
တော်မူ၏။
၁၀ ဆိတ်ကွယ်ရာအရပ်၌ရှိတော်မူသောအခါတ
ကျိပ်နှစ်ပါးသော သူတို့နှင့် အခြံအရံ တော်တို့
၁၁ သည် ထိုဥပမာ ကို မေးမြန်းကြလျှင်၊- ကိုယ်
တော်က၊ သင်တို့သည်ဘုရားသခင်နိုင်ငံတော်၏
နက်နဲသော အရာကို သိရသော အခွင့်ရှိကြ၏။-
၁၂ ပြင်၌ရှိသောထိုသူတို့မူကား၊ မြင်လျက်ပင်အာ
ရုံမပြုဘဲမြင်၍၊ ကြားလျက်ပင်အနက်ကို နားမ
လည်ဘဲကြားသဖြင့်၊သူတို့အကျင့်မပြောင်းလဲ၊
အပြစ်မလွှတ်ရသည် တိုင်အောင်၊ သူတို့အား
၁၃ ဟောသမျှကို ဥပမာအားဖြင့်ဟောရ၏။- သင်
တို့သည်ဤဥပမာကိုနားမလည်လျှင်၊ဥပမာရှိ
သမျှတို့ကိုအဘယ်သို့နားလည်ကြမည်နည်း။
၁၄ မျိုးစေ့ကြဲသော သူသည် တရားစကားကိုကြဲ
၁၅ ၏။-တရားစကားကိုထမ်းနား၌ကြဲခြင်း၊အကြောင်း၊
တရားကားကိုကြားသည်ရှိသော်၊

သာတန်သည်ရုတ်ချည်းလာ၍ နှစ်လုံး၌ ကြဲသော
တရားစကားကိုနှုတ်ယူတတ်သည်ဟု ဆိုလိုသ
၁၆ တည်း။- ကျောက်ပေါ်သောအရပ်၌ ကြဲခြင်းအ
ကြောင်းအရာကား၊ တရားစကားကို ကြား၍
ဝမ်းမြောက်သော စိတ်နှင့် ချက်ချင်းခံယူသော်
၁၇ လည်း။- စိတ်နှလုံး၌အမြစ်မစွဲသောသူတည်
အခြင်း၊ တရားစကားကြောင့် အမှုအခင်းနှင့်
ညှဉ်းဆဲခြင်းကိုခံရသောအခါချက်ချင်းဖောက်
၁၈ ပြန်တတ်သည်ဟု ဆိုလိုသတည်း။- ဆူးပင်ထဲ
တွင် ကြဲခြင်းအကြောင်းအရာကား၊ တရားစ
၁၉ ကားကို ကြား၍၊- လောကီအမှု၌ စိုးရိမ်ခြင်း
စည်းစိမ်ဥစ္စာ၏ လှည့်စားခြင်း၊ ကြွင်းသောအ
ရာကို တပ်မက်ခြင်းစိတ်တို့သည် တရားစကား
ကို လွှမ်းမိုးညှဉ်းဆဲတတ်သောကြောင့် အသီး
၂၀ မသီးနိုင်ဟုဆိုလိုသတည်း။- ကောင်းသောမြေ
၌ ကြဲခြင်းအကြောင်းအရာကား၊ တရားစကား
ကို ကြား၍ ခံယူသခြင်း၊ အဆသုံးဆယ်၊ အဆ
ခြောက်ဆယ်၊ အဆတရာ ပွားများ၍အသီးသီး
တတ်သည်ဟုဆိုလိုသတည်း။
၂၁ ထို့မှတပါး၊ ဆီမီးကို ဆီမီးခုံပေါ်မှာ မတင်၊
တောင်း၊ ခုတင်း အောက်၊ ခုတင်အောက်၌ ဝှက်
၂၂ ထားခြင်းငှါ ယူခဲ့သလော၊- ထိတ်ကွယ်ရာ၌ ရှိ
သမျှတို့သည်ထင်ရှားလိမ့်မည်၊ဝှက်ထားလျက်
၂၃ ရှိသမျှတို့သည်လည်းပွင့်လင်းလိမ့်မည်။- ကြား
စရာနားရှိသောသူမည်သည်ကားကြားပါစေ။
၂၄ ထို့မှတပါး၊ သင်တို့သည်အဘယ်သို့ကြားနာ
ရသည်ကို သတိပြုကြလော့၊ အကြင်ချိန်၊ တင်း၊
ပမာဏနှင့် သင်တို့သည်လူတပါးအား ပေး၏၊
၂၅ ထိုပမာဏ အတိုင်းကိုယ်တိုင် ခံရကြမည်။- အ
ကြင်သူသည်ရတတ်၏၊ ထိုသူအားပေးဦးမည်၊
အကြင်သူသည်ဆင်းရဲ၏၊ ထိုသူ၌ရှိသမျှကိုပင်
နှုတ်လိမ့်မည်။
၂၆ ထို့မှ တပါး၊ လူသည်ထယ်၌ မျိုးစေ့ ကြဲပြီးမှ
၂၇ နေ့တတ်တာန်မိမိမကြည့်မရှုတ်၊ညည့်၊ရှေ့၊ အိပ်
လျက်၊ နိုးလျက်နေစဉ်တွင်သည်။ အပင်ပေါက်၍
ကြီးပွားသည်နှင့် တရားထစ်၏ နိုင်ငံတော်လု
၂၈ ၏-မြေကြီးသည်မိမိအလိုအလျောက်အသီးကို
သီးစေ၍ ရှေးဦးစွာအညွှန့်ကို၊ ထိုနောက်အနှံ၊
ထိုနောက်အနှံ ထဲမှာ ရောင်ပြောသော အဆန်ကို
၂၉ ဖြစ်စေတတ်၏။- အသီးမှည့်၍ ရိတ်ချိန်ရောက်
သောအခါ၊ အဘယ်မှုန်သည် မဆိုင်းမတွန့်ဆဲစည်
နှင့်ရိတ်စေတတ်သည်ဟုမိန့်တော်မူ၏။

၃၀ ထို့မှ တပါး၊ ဘုရားသခင်၏ နိုင်ငံတော်ကို အ
ဘယ်သို့ ပုံပြရအံ့နည်း၊ အဘယ်ဥပမာနှင့် နှိုင်း
၃၁ နှိုင်းရအံ့နည်းဟူမူကား၊- မုန်ညင်းစေ့နှင့်တူ၏၊
မုန်ညင်းစေ့သည် မြေ၌ မိုက်သောအခါမြေ၌ ရှိ
သော အစေ့ တကာ တို့ထက် ငယ်သော်သည်း။
၃၂ မိုက်ပြီးမှ အပင် ပေါက်၍၊- မြက်ပင် တကာ တို့
ထက်ကြီးပွားသခြင်း၊ မိုးကောင်းကင်ငှက်တို့
သည်အရိပ်မှီ၍နားနေလောက်သောအကိုင်းအ
ခက်ကြီးတို့ကိုဖြစ်စေတတ်သည်ဟုမိန့်တော်မူ၏။
၃၃ ထိုသို့သောဥပမာစကားများအားဖြင့် ကိုယ်
တော်သည် ပရိသတ်များနားထောင်နိုင်သည့်
၃၄ အတိုင်းတရားဟောတော်မူ၏၊-ဥပမာကင်း၍
ဟောပြောတော်မမူ၊ ရှိသမျှ သော အရာ တို့ကို
ထိတ်ကွယ်ရာအရပ်၌ တပည့်တော်တို့အား ရှင်း
ပြတော်မူ၏။
၃၅ ထိုနေ့ညအချိန်၌ကိုယ်တော်ကား၊ကမ်းတခြား
၃၆ သို့ကူးကြကုန်အံ့ဟု မိန့်တော်မူလျှင်၊- တပည့်
တော်တို့သည်လူစုဝေးရာမှထွက်၍ လှေပေါ်၌ရှိ
နှင့်သောကိုယ်တော်ပါလျက်သွားကြ၏၊အခြား
၃၇ လှေတို့သည်ပါသေး၏၊-ထိုအခါပြင်းစွာသော
မိုးသက်လေ နှင့်ထိုင်၊ ဖြစ်၍ လှိုင်းတံပိုးခတ်
သောကြောင့် လှေသည် ရေနှင့် ပြည့်သော၏။-
၃၈ ကိုယ်တော်သည်ပဲ့၌ခေါင်းအုံးပေါ်မှာကျိန်းစက်
၍ နေတော်မူ၏၊ တပည့် တော်တို့သည် ကိုယ်
တော်ကိုနှိုးပြီးမှ၊အရှင်ဘုရား၊အကျွန်ုပ်တို့သေပြီ
ဖျက်ဆီးခြင်းသို့ ရောက်သည်ကိုလျစ်လျူသော
စိတ်ရှိတော်မူသလောဟု လျှောက်ကြသော်၊-
၃၉ ကိုယ်တော်သည်ထ၍လေကိုဆိတ်ငြိမ်ဝစ်ရှားနေ
လော့၊ ရေနှင့်ပင်လယ်ကို ဆုံးမတော်မူသဖြင့်လေ
၄၀ သည်ငြိမ်၍အလွန်သာယာသလေ၏၊-ကိုယ်တော်
ကလည်း၊ သင်တို့ သည် အဘယ် ကြောင့် ဤမျှ
လောက်ကြောက်တတ်သနည်း၊အဘယ်ကြောင့်
ယုံကြည်ခြင်းစိတ်နှင့်ကင်းသနည်းဟု မေးတော်
၄၁ မူလျှင်၊- သူတို့သည်အလွန်ကြောက်လန့်၍၊ ဤသူ
ကားအဘယ်သို့သောသူနည်း၊လေနှင့်ပင်လယ်
သည်လူ၏စကားကိုနားထောင်ပါသည်တကား
ဟု အချင်းချင်းပြောဆိုကြ၏။

၅

၁ ထိုင် တစ်ဘက်၊ ဂါဒရပြည်ကို ရောက် ကြ၍၊-
၂ လှေမှထဲတော်မူလျှင်ကျောက်ဂူသင်္ချိုင်းတော်ရုံသည်စော
ချွင်း၊ ထွင်၊ ညစ်ညူးသော နတ် ၌ စေသော့ဆည့်
ထင်းရှိုင်းတစ်ခြင်မှထွက်သာ၍ ကိုယ်တော်ကို

ရေးဦးကြိုးဖွဲ့လေ၏၊-ထိုသူသည်ထင်းမြူ ်းသော
ဖြစ်၍နေတတ်၏၊သူကိုသံကြိုးနှင့်ပင်အဘယ်သူ
၄ မှာချည်၍မပိုင်၊- ခြေချင်း၊ သံကြိုးနှင့်အခါများ
စွာချည်စပ်းထော်ထည်။ သံကြိုးကို ဖြွဲဖြတ်၍
ခြေချင်းကို ဖြိုတတ်၏၊ သူကိုထည်စေခြင်းငှါအ
၅ ဘယ်သူမှ မတတ်နိုင်၊- နေ့ညဉ့် မပြတ်သင်း
ချိုင်းတစပြင်၌၎င်း၊ တောင်ပေါ်၌၎င်းထစ်ကြော်
လျှက်၊ ကျောက်ခဲနှင့် ကိုယ်ကို ရှနေလေ့ရှိ
၆ နေတတ်၏၊-ယေရှုကိုတဝေးကမြင်လျှင်၊ အထံ
၇ တော်သို့ပြေးလာ၍ ပြပ်ဝပ်လျှက်၊- အမြင့်ဆုံး
သောဘုရား သခင်၏ သား တော် ယေရှု၊ ကိုယ်
တော်သည်အကျွန်ုပ်နှင့်အဘယ်သို့ဆိုင်သနည်း။
အကျွန်ုပ်ကို ညှဉ်းဆဲတော်မမူမည်အကြောင်း၊
ဘုရားသခင်ကို အမှီပြု၍ အကျွန်ုပ် တောင်းပန်
ပါသည်ဟု၊ ကြီးသော အသံ နှင့် အော်ထစ်၍
၈ လျှောက် လေ၏၊- လျှောက် သည့် အ ကြောင်း
ကား၊ ညစ်ညူးသော နတ်၊ ထို လူ မှ ထွက် သွား
၉ လော့ဟုမိန့်တော်မူခဲ့ပြီ၊- ကိုယ်တော်ကလည်း၊
သင်သည်အဘယ်အမည်ရှိသနည်းဟု မေးတော်
မူလျှင်၊ အကျွန်ုပ်အမည်ကား၊ လေဂေါင်ဖြစ်ပါ
၏၊ အကျွန်ုပ် တို့ သည် အ များ ဖြစ် ကြ ပါ၏ ဟု
၁၀ လျှောက်ပြီးမှ၊-ထိုပြည်ထဲက အခြားသို့မနှင်ပါ
မည်အကြောင်းများစွာတောင်းပန်လေ၏။
၁၁ ထိုအရပ်၌ တောင်ပေါ်မှာ များစွာသောဝက်
၁၂ အစုသည် ကျက်စားလျက် ရှိ၏၊- နတ်ဆိုး အ
ပေါင်းတို့ကလည်း၊အကျွန်ုပ်တို့သည်ထိုဝက်ထဲသို့
ဝင်ရပါမည်အကြောင်း စေလွှတ်တော် မူပါဟု
၁၃ တောင်းပန်ကြလျှင်၊-ယေရှုသည်ချက်ချင်းအခွင့်
ပေးတော်မူ၏၊ ညစ်ညူးသောနတ်တို့သည်ထွက်
၍ ဝက် ထဲသို့ ဝင် သဖြင့်၊ ဝက် အစု သည် ဆိုင်
ကမ်းစောက်ကို တဟုန်တည်းပြေးဆင်း၍ ဆိုင်၌
အသက်ဆုံးကြ၏၊ အရေ အတွက် အားဖြင့် နှစ်
၁၄ ထောင်ထောက်ရှိ၏၊- ဝက်ကျောင်းသော သူတို့
သည်ပြေး၍မြို့ရွာတို့၌ သိတင်းကြားပြောလျှင်၊
လူများတို့သည် ထိုအမှု အရာထုံကို ကြည့်ရှုအံ့
၁၅ သောငှါထွက်လာကြ၏၊- အထံတော်သို့ရောက်
သောအခါ၊ နတ်ဆိုး လေဂေါင် စွဲသော သူသည်
အဝတ်ကိုဝတ်၍ ပကတိစိတ်နှင့် ထိုင်နေသည်
ကိုမြင်လျှင်၊ ကြောက်ရွံ့ခြင်းသို့ ရောက်ကြ၏၊-
၁၆ နတ်ဆိုးစွဲသော သူ၌၎င်း၊ ဝက်တို့၌၎င်း အဖြစ်
ထိုဖြစ်သည်ကို သိမြင်သောသူတို့သည် နောက်
၁၇ ထခသော သူတို့အားပြန်ကြားပြီးမှ၊-မိမိတို့ပြည်
က ထွက်သွားတော်မူမည် အကြောင်း တောင်း
ပန်ကြ၏၊
၁၈ လှေထဲသို့ ဝင်တော်မူသော အခါ နတ်ဆိုးစွဲ
သူးသောသူသည်ကိုယ်တော်နှင့်အတူရှိပါမည်
၁၉ အကြောင်းတောင်းပန်လျှင်၊-ကိုယ်တော်သည်
အခွင့်မပေး၊သင်သည်ကိုယ်အိမ်သို့သွားလော့၊
ထာဝရဘုရားသည် သနား ခြင်း စိတ် တော်နှင့်
သင်၌ အ ဘယ် မျှ လောက် ကျေးဇူး ပြုတော်မူ
သည်ကို သင်၏ အဆွေအမျိုးတို့အား ပြန်ကြား
၂၀ လော့ဟုမိန့်တော်မူလျှင်၊- ထိုသူသည်သွား၍၊
ယေရှုသည် အ ဘယ်မျှလောက်ကျေးဇူးပြုတော်
မူသည်ကို၊ ဒေကာပေါလိပြည်တွင်သိတင်းကြား
ပြော သည် ဖြစ်၍၊ ခပ် သိမ်း သော သူတို့ အံ့
ဩခြင်းရှိကြ၏၊
၂၁ ယေရှုသည် ကမ်း တစ်ဘက်သို့ ကူးပြန်၍ ဆိုင်
နားမှာရှိတော်မူစဉ်၊ များစွာသောလူအပေါင်း
၂၂ တို့သည်အထံတော်၌စုဝေးကြ၏၊-ထိုအခါတော
ရှရှုအမည်ရှိသော တရားဇရပ်မှူးသည်လာ၍
ကိုယ်တော်ကိုမြင်လျှင်၊ ခြေတော်ရင်း၌ပြပ်ဝပ်
၂၃ လျှက်၊ အကျွန်ုပ်၏ သမီးငယ် သေလုပါပြီ၊- ထို
သော်လည်း၊ကိုယ်တော်သည်ကြွ၍သူကိုအသက်
ရှင်ခြင်းငှါ သူ၏အပေါ်၌ လက်ကိုတင်တော်မူ
လျှင်၊အသက်ရှင်ပါလိမ့်မည်ဟုများစွာအတောင်း
၂၄ ပန်၏၊- ကိုယ်တော်သည် သူနှင့်အတူ သွား၍
များစွာသော လူအပေါင်းတို့သည် ကိုယ်တော်
ကိုခြံရံလျှက်ထိခိုက်တိုက်မိကြ၏၊
၂၅ ထိုအခါ တဆယ်နှစ်နှစ်ပတ်လုံးသွေးသွန်အ
၂၆ နာစွဲသောသူကြောင့်၊-များစွာသောဆေးသမားတို့
လက်၌ အ ထွန် ခံရ၍၊ ဥစ္စာ ရှိ သမျှ ကုန် သော်
လည်း သက်သာ မရ ထည် သာမက၊ အနာ ဆိုး
၂၇ သောမိစ္ဆ တလောက် ထည်၊- ယေရှု၏ သိတင်း
၂၈ တော်ကို ကြားသည်ရှိသော်၊- ငါသည် အဝတ်
တော်ကိုသာထိလျှင်ချမ်းသာရမည်ဟု ဆိုအံ့
နှင့်၊ လူအစုအဝေးထဲ၌ နောက်တော်သို့လာ၍
၂၉ အဝတ်တော်ကိုထိလေ၏၊- ထိုခဏချင်းတွင်အ
သွေးစုဝေးရာ စမ်းချောင်းသည်ဖြစ်၍၊ ထိုရော
ဂါမှ စ တ်ခြင်းနှင့် ကင်းလွတ်ပြီဟု မိမိကိုယ်၌
၃၀ သိလေ၏၊- ယေရှုသည်မိမိကိုယ်မှတန်ခိုးထွက်
သည်ကိုချက်ချင်းသိတော်မူလျှင်၊လူအစုအဝေး
၌နောက်သို့လှည့်၍၊ ငါ့အဝတ်ကို အဘယ်သူထိ
၃၁ သနည်းဟု မေးတော်မူ၏၊- တပည့်တော်တို့က၊
လူ အစုအဝေးသည် ကိုယ်တော်အား ထိခိုက်

ကြသည်ကိုမြင်လျှင်မပင်၊ ငါ့ကိုအဘယ်သူတို့သ
နည်းဟုမေးတော်မူပါသည်တကာလုံးလျှောက်
၃၂ ကြသော်လည်း၊- ကိုယ်တော်သည်ထိုသို့ပြုသော
သူကို မြင်ခြင်းငှါ ပတ်လည်သို့ ကြည့်ရှုတော်မူ
၃၃ ၏၊- ထိုမိန်းမသည်ကိုယ်၌အဘယ်သို့ဖြစ်သည်ကို
သိသောကြောင့် ကြောက်ရွံ့တုန်လှုပ်လျက် အ
ထံတော်သို့ လာ ပြီး လျှင်၊ ပြပ် ဝပ် ၍ ထို အ
ကြောင်းရှိသမျှကိုအမှတ်အမှန်ကြားလျှောက်
၃၄ လေ၏၊- ကိုယ်တော်ကလည်း၊ သမီး၊သင်၏ယုံ
ကြည်ခြင်းသည် သင့် အနာကို ငြိမ်းစေပြီ၊ ငြိမ်
ဝပ် စွာသွားလော့၊ရောဂါနှိပ်စက်ခြင်းနှင့်ကင်း
လွတ်စေဟုမိန့်တော်မူ၏၊
၃၅ ထိုသို့မိန့်တော်မူစဉ်တွင်တရားဇရပ်မှူးအိမ်
မှလူလာ၍၊ကိုယ်တော်၏သမီးသေပါပြီ၊ အဘယ်
ကြောင့်ဆရာကို နှောင့်ရှက်သေးသနည်းဟု ဆို
၃၆ ကြ၏၊- ထိုစကားကို ယေရှုသည်ကြားလျှင်၊ မ
ကြောက်ကြနှင့်၊ ယုံကြည်ခြင်း စိတ်တစုသာ ရှိ
စေလော့ဟု၊ တရားဇရပ်မှူးအား ချက်ချင်း မိန့်
၃၇ တော်မူ၏၊- ပေတရု၊ ယာကုပ်၊ ယာကုပ်၏ ညီ
ယောဟန်မှတပါး အဘယ် သူကို မျှ မလိုက်စေ
၃၈ ဘဲ၊-တရားဇရပ်မှူးအိမ်သို့ရောက်၍ဗုန်းဗုန်း
သဲသဲ ပြုကြသည် ကိုငင်၊ အလွန် ငိုကြွေး မြည်
၃၉ တမ်းသော သူတို့ကိုငင် မြင်တော်မူလျှင်၊- အ
တွင်းသို့ ဝင်၍၊ သင်တို့ သည် အဘယ် ကြောင့်
ဗုန်းဗုန်းသဲသဲပြု၍ငိုကြွေးကြသနည်း၊သူငယ်
သေသည်မဟုတ်၊ အိပ်ပျော်သည်ဟု မိန့်တော်မူ
၄၀ သော်၊-ထိုသူတို့သည်ပြက်ရယ်ပြုကြ၏၊ထိုသူရှိ
သမျှတို့ကိုပြင်သို့ထွက်စေပြီးမှ၊သူငယ်၏မိဘတို့
ကိုငင်၊ကိုယ်တော်နှင့်ပါသောသူတို့ကိုငင် ခေါ်
၄၁ ပြီးလျှင်၊သူငယ်လျောင်းရာအရပ်သို့ဝင်၍၊- သူ
ငယ်၏လက်ကို ကိုင်တော်မူလျက်၊ တလိသကုမိ
ဟုမိန့်တော်မူ၏၊အနက်ကား၊မိန်းငယ်၊ ထလော့
၄၂ ငါဆို၏ဟု ဆိုလိုသတည်း၊-ထိုခဏချင်းတွင်မိန်း
ငယ်ထည်ထ၍ လှမ်းသွား၏၊ သူသည် တဆယ်
နှစ်နှစ် အရွယ်ရှိ၏၊ ထိုသူတို့သည် အလွန် မိန်း
၄၃ မောတွေဝေခြင်းသို့ရောက်ကြ၏၊-ထိုအမှုအရာ
ကိုအဘယ်သူမျှ မသိစေမည်အကြောင်း၊ ထိုသူ
တို့ကိုကြပ်ကြည်းစွာ ပညတ်တော်မူ၍၊ သူ့အား
စားစရာပေးလော့ဟုမိန့်တော်မူ၏၊

၆

၁ ထိုအရပ်မှကြွ၍တပည့်တော်တို့သည် လိုက်
၂ ကြသဖြင့်မိမိမြို့သို့ရောက်တော်မူ၏၊- ဥပုသ်နေ့
ရောက်လျှင်တရားဇရပ်၌ဆုံးမဩဝါဒပေးတော်
မူ၏၊လူများတို့သည်ကြားနာရလျှင်မိန်းမောတွေ
ဝေခြင်းသို့ ရောက်၍၊ ဤသူသည်ဤ အရာတို့ကို
အဘယ်မှာရသနည်း၊ သူရသောပညာကား၊ အ
ဘယ်ပညာနည်း၊ ဤမှုလောက်သောတန်ခိုးများ
၃ ကိုအဘယ်သို့ပြုနိုင်သနည်း၊- သူသည်လက်သ
မား မဟုတ်လော၊ မာရိ၏ သားမဟုတ် လော၊
ယာကုပ်၊ ယောသေ၊ ယုဒ၊ ရှိမုန်တို့၏ အစ်ကိုမ
ဟုတ်လော၊ သူ့နှမများသည်လည်း ငါတို့နှင့်
အတူနေကြသည်မဟုတ်လောဟုပြောဆို
၄ လျှက်စော်ကားမိတ်ပျက်ကြ၏၊ ယေရှုကလည်း၊
ပရောဖက်သည်မိမိမြို့၊မိမိအဆွေနေရာ၊ မိမိအိမ်
မှတပါး အခြားသော အရပ်၌ အသရေရှိသည်
၅ ဟု၊ ထိုသူတို့အား မိန့် တော်မူ၏၊- မကျန်းမမာ
သောသူအချို့တို့အပေါ်မှာလက်တော်ကိုတင်၍
အနာကိုငြိမ်းစေခြင်းမှတပါး၊ အဘယ်တန်ခိုး
၆ တော်ကိုမျှ ထိုအရပ်၌ပြတော်မမူနိုင်၊-ထိုသူတို့
သည်မယုံကြည်ကြသည်ကို အံ့ဩခြင်းရှိတော်
မူ၏၊ ပတ်လည်၌ရှိသောမြို့ရွာများသို့စေ့စေ့
ရိဟည့်လည်၍ဆုံးမဩဝါဒပေးတော်မူ၏၊
၇ တကျိပ်နှစ်ပါးသောတပည့်တော်တို့ကို ခေါ်
တော်မူပြီးမှ၊ညစ်ညူးသောနတ်တို့ကိုနိုင်စေခြင်း
ငှါအခွင့်ပေးလျက်၊ နှစ်ယောက်စီ နှစ်ယောက်စီ
၈ စေလွှတ်တော်မူ၍၊- သင်တို့သည်တောင်ဝေးတ
ခုမှတပါး၊ လမ်းခရီးသို့အဘယ်အရာကိုမျှမယူ
ကြနှင့်၊လွယ်အိတ်နှင့်မုန့်မှစ၍ ခါးပန်း၌ကြေး
၉ ငွေ ကို မယူ ကြနှင့်၊- ခြေနင်း ကို စီးကြ လော့၊
အင်္ကျီ နှစ်ထပ်မဝတ်ကြနှင့်ဟု မှာထားတော်မူ
၁၀ ၏၊- ထိုမှတပါး၊ သင်တို့သည်မည်သည့်အိမ်သို့
ဝင်လျှင်၊ ထိုအိမ်တွင် ထိုအရပ်မှမထွက်မသွား
၁၁ မှီတိုင်အောင် နေကြလော့၊- အကြင်သူတို့သည်
သင်တို့ကို လက်မခံ၊ သင်တို့၏ စကားကို နားမ
ထောင် ဘဲ နေ၏၊ ထိုသူတို့ နေရာ အရပ်မှ ထွက်
သွားစဉ်၊ သူတို့တဘက်၌ သက်သေဖြစ်စေခြင်း
ငှါ၊ သင်တို့၏ ခြေဝေါ်မှ ခြေမှုန့်ကို ခါထုတ်ကြ
လော့၊ ငါအမှန်ဆိုသည် ကား၊ တရားစီရင်ထိ
သောနေ့၌ ထိုမြို့သည်သောဒုံမြို့နှင့်ဂေါမောရမြို့
၁၂ ထက်သာ၍ ခံရလတံ့ဟုမိန့်တော်မူ၏၊- တပည့်
တော်တို့သည် ထွက်သွား၍ နောင်တရစေရားကို
၁၃ ဟောကြ၏၊- နတ်ဆိုးများကိုနှင်ထုတ်ကြ၏၊မ
ကျန်းမမာသောသူများတို့ကိုဆီနှင့်လူး၍ အနာ
ကိုငြိမ်းစေကြ၏၊

၁၄ ထိုအခါသိတင်းတော်ကျော်စောသည်ဖြစ်၍၊
ဟေရုဒ်မင်းကြီးသည်ကြားလျှင်၊ နှစ်ခြင်းဆရာ
ယောဟန် သည် သေခြင်းမှ ထမြောက် လေပြီ။
ထိုကြောင့်၊တန်ခိုးများကိုပြနိုင်သည်ဟုဆို၏။—
၁၅ လူအချို့က၊ ဤသူသည် ဧလိယဖြစ်သည်ဟု ဆို
ကြ၏။ အချို့က၊ရှေးပရောဖက်ကဲ့သို့ ပရောဖက်
၁၆ ဖြစ်သည်ဟုဆိုကြ၏။— ဟေရုဒ်သည်ကြားလျှင်၊
ဤသူကား၊ ငါ၏အမိန့်နှင့်ထဦပင်းကိုဖြတ်သော
ယောဟန်ဖြစ်၏။ သေခြင်းမှ ထမြောက် လေပြီ
၁၇ ဟုဆိုလေ၏။— အထက်က၊ ဟေရုဒ်သည်မိမိညီ
ဖိလိပ္ပု၏ ခင်ပွန်းဟေရောဒိကို သိမ်းယူသဖြင့်၊
ထိုမိန်းမအကြောင်းကြောင့် စေလွှတ်၍ ယောဟန်
ကို ဖမ်းဆီးပြီးလျှင်၊ ထောင်ထဲမှာ ချုပ် နှောင်
၁၈ ထေ၏။—အကြောင်းမူကား၊ယောဟန်က၊အရှင်
မင်းကြီးသည်ညီတော်၏ ခင်ပွန်းကိုမသိမ်းအပ်
၁၉ ဟု ဟေရုဒ်အား ဆိုလေပြီ။— ထိုကြောင့်၊ ဟေ
ရောဒိသည်ယောဟန်ကိုရန်ငြိုးဖွဲ့သဖြင့် သတ်
၂၀ ခြင်းငှါ အလိုရှိ၏။— သို့သော်လည်း၊ ယောဟန်
သည် ဖြောင့်မတ်သန့်ရှင်းသော သူဖြစ်ကြောင်း
ကိုဟေရုဒ်သည်သိ၍သူကိုကြောက်ရွံ့ရိုသေ၏။
သူကိုလည်းစောင့်မ၏။ အမှုအရာများတို့၌ သူ၏
စကားကို နားထောင်၍၊ ဝမ်းမြောက်သောစိတ်
နှင့် ထည်း နား ထောင် တတ် သည် ဖြစ် သော
ကြောင့်ထိုမိန်းမသည်အခွင့်မရနိုင်။
၂၁ ထိုနောက်မှအဆင်သင့်သောအခါ ဟေရုဒ်ကို
ဖွားသောနေ့ရက်၌နှစ်စည်ပွဲကိုခံ၍မှူးမတ်၊စစ်
သူကြီး၊ဂါလိလဲပြည်၌အကြီးအကဲဖြစ်သောသူ
၂၂ တို့ကို ကျွေးတော်မူစဉ်တွင်၊— ဟေရောဒိ၏ သမီး
သည်ဝင်၍ကသဖြင့်၊ ဟေရုဒ်မှစ၍ အပေါင်းအ
ဖေါ်တို့အားနှစ်သက်သောစိတ်ကိုဖြစ်စေ၏၊ထိုအ
ခါ မင်းကြီးက၊ သင်သဦ အလိုရှိသမျှကိုတောင်း
လော့၊ငါပေးမည်ဟုထိုမိန်းမငယ်အားဆိုလေ၏။—
၂၃ တစ်နိုင်ငံ၏တဝက်တိုင်အောင်၊သင်တောင်းသမျှကိုငါပေးမည်
၂၄ ထိုမှတပါး ငါပေးမည်ဟု ကျိန်ဆိုလေ၏။— ထို
မိန်းမငယ်သည်ထွက်၍၊အဘယ်အရာကိုတောင်း
ရမည်နည်းဟု၊သူ၏အမိကိုမေးလျှင်အမိက၊နှစ်
ခြင်း ဆရာ ယောဟန် ၏ ဦးခေါင်းကို တောင်း
၂၅ လော့ဟု ပြန်ဆိုသော်၊— ချက်ချင်း မိန်းမငယ်သည်
မင်းကြီးထံသို့ အလျင် တဆော ဝင်၍၊ နှစ်ခြင်း
ဆရာယောဟန်၏ ဦးခေါင်းကို ဤလင်ပန်း၌အ
လျှင်အမြန်ပေးတော်မူစေခြင်းငှါ ကျွန်မအလိုရှိ
၂၆ ပါသည်ဟုတောင်းလျှောက်၏။— မင်းကြီးသည်
အလွန် ဝမ်းနည်းခြင်း ရှိသော်လည်း၊ ကျိန် ဆို
ခြင်းကိုရှင်၊အပေါင်းအဖေါ်တို့၏မျက်နှာကိုရှင်
ထောက် သောကြောင့်၊ ထို မိန်း မ ငယ်ကို မငြင်းမ
၂၇ ပယ်လို၍၊— ဦးခေါင်းကို ယူခဲ့ဟု အမိန့်တော်ရှိ
လျက်၊လူစောင့်တယောက်ကိုချက်ချင်းစေလွှတ်
လျှင်၊ လူစောင့်သည်သွား၍ ယောဟန်၏ ဦး
၂၈ ခေါင်းကို ထောင်ထဲမှာဖြတ်လေ၏။— ဦးခေါင်းကို
လင်ပန်း၌ ဆောင်ခဲ့၍ ထိုမိန်းမငယ်အား ပေးပြီးမှ
မိန်း မငယ် သည် ထည်း သူ့အမိ ကို ပေး လေ၏။—
၂၉ ယောဟန်၏တပည့်တို့သည်လည်း ကြားသော
အခါလာ၍ အလောင်းကို ဆောင်သွားပြီးလျှင်၊
သင်းချိုင်းတွင်း၌ထားကြ၏။
၃၀ တမန်တော်တို့သည် ယေရှုထံတော်၌ စုဝေး
၍၊ မိမိ တို့ ပြု သမျှ၊ သွန်သင် သမျှ တို့ ကိုကြား
၃၁ လျှောက်ကြ၏။— ကိုယ်တော်ကလည်း၊ တောသို့
ဆိတ်ကွယ်ရာအရပ်သို့လာကြ။ ခဏအားမြည့်
၍ ငြိမ်သက် စွာ နေကြ ဟု မိန့် တော် မူ၏။ အ
ကြောင်းမူကား၊လူများသွားလာကြသည်ဖြစ်၍
တမန်တော်တို့သည် အစာစားခြင်းငှါမျှ မအား
၃၂ နိုင်ကြ။— ထိုကြောင့်၊ လှေစီး၍ တော၌ ဆိတ်
၃၃ ကွယ်ရာအရပ်သို့သွားကြ၏။-သွားကြသည်ကို
လူများတို့သည် မြင်၍ ကိုယ်တော်ဖြစ်သည်ကို
သိလျှင်၊ အမြို့မြို့ကခြေသွားတို့မှကြက်၍ ကိုယ်ရောက်
သို့ ကုန်းကြောင်း ပြေးသွားသဖြင့်၊ တမန်တော်
တို့ အရင်ရောက်၍ ထံတော်၌ စုဝေးကြ၏။—
၃၄ ယေရှုသည် ထွက်ကြွ၍ လူများ အပေါင်းတို့ကို
တွေ့မြင်တော်မူလျှင်၊ထိုသူတို့သည်ထိန်းသူမရှိ၊
ဖြစ်ထားသောသိုးကဲ့သို့ ဖြစ်ကြသည်ကို သနား
ခြင်းစိတ်တော်ရှိ၍၊ များစွာသော ဆုံးမြွက်ဩဝါဒ
ကိုပေးတော်မူ၏
၃၅ မိုးချုပ်သောအခါ တပည့်တော်တို့သည်
ချဉ်းကပ်၍၊ ဤအရပ်သည် တောအရပ်ဖြစ်ပါ
၃၆ ၏။မိုးလည်းချုပ်ပါပြီ။-လူများတို့သည်ပတ်
ဝန်းကျင်ရွာဇနပုဒ်သို့သွား၍ စားစရာကို ဝယ်
စေခြင်းငှါအခွင့်ပေးတော်မူပါ။ သူတို့၌စားစရာ
၃၇ မရှိပါဟုလျှောက်ကြလျှင်၊— ကိုယ်တော်က၊သူ
တို့စားစရာကို သင်တို့ပေးကြလော့ဟု ပြန်ပြော
တော်မူ၏။ တပည့်တော်တို့ကလည်း၊ အကျွန်ုပ်
တို့သည်သွား၍ဒေနာရိအပြား နှစ်ရာနှင့်မုန့်ကို
ဝယ်ပြီးလျှင်၊ သူတို့အားစားစရာကိုပေးရပါမည်
၃၈ လောဟုလျှောက်ကြ၏။— ကိုယ်တော်ကလည်း
သင် တို့၌ မုန့် အဘယ်နှစ်လုံးရှိသနည်း၊ သွား၍

ကြည့်ရှုကြဟု မိန့်တော်မူသည်အတိုင်း သူတို့
သည်သိပြီးမှ၊ မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်ရှိပါ
၃၉ သည်ဟု လျှောက်ပြန်၏။- ထိုအခါ လူအပေါင်း
တို့ကို မြက်ပင်ပေါ်မှာ အစုစုလျောင်းကြစေဟု
၄၀ အမိန့်တော်ရှိ၏၊-သူတို့သည်တရာတစု၊ငါးဆယ်
၄၁ တစု၊အစုစုလျောင်းကြလျှင်၊-ကိုယ်တော်သည်
မုန့်ငါးလုံးနှင့် ငါး နှစ်ကောင်ကိုယူ၍၊ ကောင်း
ကင်သို့ ကြည့်မျှော်လျက် ကျေးဇူးတော်ကို ချီး
မွမ်းပြီးမှ၊ မုန့်ကိုဖဲ့၍ လူများတို့ရှေ့၌ ထည့်စေ
ခြင်းငှါတပည့်တော်တို့အား ပေးတော်မူ၏၊ ငါး
နှစ်ကောင်ကိုလည်း လူ အပေါင်းတို့အား ဝေ၄
၄၂ တော်မူ၏။- လူအပေါင်းတို့သည်စား၍ဝကြပြီး
၄၃ မှ၊- မုန့်နှင့်ငါးအကျိုးအပဲ့ကို ကောက်သိမ်း၍
၄၄ တဆယ်နှစ်တောင်းအပြည့်ရကြ၏။-မုန့်ကိုစား
သောသူယောကျ်ား အရေအတွက်ကား၊ လူငါး
ထောင်မျှလောက်ရှိသတည်း။
၄၅ စည်းဝေးသောသူတို့ကို လွှတ်တော်မူစဉ်တွင်
တပည့်တော်တို့ကို လှေစီးစေ၍ ကမ်း၊ တဖက်၊
၄၆ ဗက်ဇဲဒမြို့သို့အရင်ကူးစေတော်မူ၏၊-စည်းဝေး
သောသူတို့ကိုလွှတ်ပြီးမှ ဆုတောင်းပဌနာပြုအံ့
၄၇ သောငှါတောင်ပေါ်သို့ ကြွတော်မူ၏၊- ညအချိန်
ရောက်သောအခါ လှေသည် အိုင်အလယ်၌ရှိ၏၊
ကိုယ်တော်သည်ကုန်းပေါ်မှာတယောက်တည်း
၄၈ ရှိနေတော်မူ၏၊-လေမသင့်သောကြောင့်တပည့်
တော်တို့သည် တက်ခတ်၍ ပင်ပန်းကြသည်ကို
မြင်တော်မူ၏၊ညသုံးချက်တီးကျော်အချိန်၌အိုင်
ပေါ်မှာစကြတော်မြန်လျက်၊ သူတို့ရှိရာသို့ကြွ၍
၄၉ အနားမှာရှောက်သွားမည်ပြုတော်မူ၏၊- ထိုသို့
အိုင်ပေါ်မှာစကြတော်မြန်၍ကြွတော်မူသည်ကို
သူတို့သည်မြင်လျှင်၊ ဖုတ်စ္ဆေဖြစ်သည်ဟုမိတ်
၅၀ ထင်နှင့် အော်တစ်ကြ၏၊- ထို သူ အ ပေါင်း တို့
သည် ကိုယ်တော်ကို မြင်၍ ထိတ် လန့် ခြင်း သို့
ရောက်ကြ၏၊ ကိုယ် တော်သည် ချက်ချင်း နှုတ်
ဆက်၍၊တည်ကြည်သောစိတ်ရှိကြလော့၊ငါပင်
ဖြစ်သည်၊ မကြောက်ထန့်ကြနှင့်ဟု မိန့်တော်မူ
၅၁ ၏၊-လှေပေါ်၌ သူတို့ရှိရာသို့တက်တော်မူလျှင်၊
လေသည်ငြိမ်လေ၏၊ထိုသူတို့သည်အထိုင်းထက်
အလွန်မိန်းမောတွေဝေအံ့ဩခြင်းသို့ရောက်
၅၂ ကြ၏၊- အကြောင်းမူကား၊ သူတို့ မိတ် နှစ်လုံး
မိုက်သည်ဖြစ်၍၊ မုန့်၌ ပြသောတန်ခိုးတော်ကို
ပမာဏမပြုကြ။
၅၃ တမ်းတဖက်သို့ကူးလျှင်ဂနေသရက်နယ်သို့
၅၄ ရောက်၍လှေကိုဆိုက်ကြ၏၊- လှေမှဆင်းသော
အခါလူများတို့သည်မျက်နှာတော်ကို ချက်ချင်း
၅၅ မှတ်မိလျှင်၊- ပတ် ဝန်းကျင် အရပ်၌ ရှိသမျှသို့
ပြေးသွား၍မည်သည်အရပ်၌ရှိတော်မူသည်ဟု
ကြားလျှင်၊ ထိုအရပ်သို့လူနာများကို အိပ်ရာနှင့်
၅၆ ဆောင်ခဲ့ကြ၏၊- မြို့ရွာဇနပုဒ်သို့ ရောက်တော်မူ
ရာ၌ မကျန်းမမာသော သူ တို့ကို ထမ်းနား မှာ
ထား၍၊ အဝတ်တော် ၏ ပုန်း ပွားကိုမျှ တို့ရ ပါ
မည်အကြောင်း အခွင့် တောင်းကြ၏၊ တို့သမျှ
သောသူတို့သည်လည်းချမ်းသာရကြ၏။

၇

၁ ထိုအခါဖာရိရှဲတို့နှင့် ယေရုရှလင်မြို့မှရောက်
လာ သော ကျမ်း ပြု ဆရာ အချို့ တို့ သည် အထံ
၂ တော်၌ စုဝေး၍၊- တပည့်တော် အချို့တို့သည်
ညစ်ညူးသော လက် တည်း ဟူသော ရေ မဆေး
သောလက်နှင့် အစာစားသည်ကို မြင်လျှင်၊ အ
၃ ပြစ် တင် ကြ၏၊- အ ကြောင်း မူကား၊ ရှေး လူ
ထောင်းတို့မှ ဆက်ဆံသောနည်းဥပဒေသကို ခံ
ယူသော ဖာရိရှဲမှစ၍ ယုဒလူ အပေါင်း တို့သည်
၄ လက်ဆုပ်မဆေးဘဲအစာကို စားလေ့မရှိ၊- ဈေး
မှ ပြန်လာသော အခါ၌လည်း၊ နှစ်ခြင်းကိုမပြုဘဲ
စားလေ့မရှိ၊ ထိုမှတပါး၊ ခွက်၊ ဖလား၊ ကြေးဝါ
ဝုကန်၊ ခုတင်တို့ကိုနှစ်ခြင်းမှစ၍အခြားသောထုံး
၅ တမ်းများကိုခံယူ၍ကျင့်လေ့ရှိ၏၊-ထိုအခါဖာရိ
ရှဲတို့နှင့်ကျမ်းပြုဆရာတို့က၊ ရှေးလူထောင်းတို့
မှ ဆက်ခံသော နည်းဥပဒေသကို ကိုယ်တော်၏
တပည့်တို့သည်မကျင့်ဘဲလျက်၊အဘယ်ကြောင့်
ညစ်ညူးသော လက် နှင့် အစာစားကြပါသနည်း၊
ဟုမေးလျှောက်ကြလျှင်၊ ကိုယ်တော်က၊ကျမ်း
၆ စာထာသည်အတိုင်း၊- ဟေရှာယသည် လျှို့ဝှက်
သောသင် တို့ကို ရည်မှတ်လျက်၊ ဤလူမျိုးသည်
နှုတ်ခမ်းနှင့်ငါကိုရိုသေကြ၏၊စိတ်နှလုံးမူကား၊
၇ ငါနှင့်ဝေးလှ၏၊- လူတို့စီရင်သော ပညတ်တို့ကို
အွန်သင်၍ နည်းဥပဒေသလေးလျှက်ပင်ငါကိုအ
ချည်းနှီး ကိုးကွယ်ကြ၏ဟု၊ နောက် ဖြစ် ထတ့်
၈ သော အရာကို လျှောက်ပတ်စွာဟောခဲ့ပြီ။- အ
ကြောင်း မူကား၊ သင်တို့ သည် ဘုရားသခင် ၏
ပညတ်တော်ကို ပယ်၍ ခွက်ဖလားကို နှစ်ခြင်း
တည်းဟူသော၊ လူတို့မှ ဆက်ခံသော နည်းဥပ
ဒေသကို ခံယူလျက်၊ ထိုသို့သော အခြားအထူး
၉ အလေ့များတို့ကိုကျင့်လေ့ရှိကြ၏၊- သင်တို့သည်
အဆက်ဆက် ခံသော နည်း ဥပဒေသကို ကျင့်ရ

သောအစဉ်အလာ ဥပဒေကို စောင့်ရှောက်ခြင်းငှါ၊ ဘုရားသခင်၏ပညတ်
တော်ကိုလျှောက်ပတ်စွာပယ်ကြသည်တကား။-
၁၀ မောရှေ၏ ပညတ်ကား၊ မိဘ ကို ရိုသေစွာ ပြု
လော့။ ဆကြဲင်သူသည်မိဘကို ရှုတ်ချင့်ပြစ်မှား
၏၊ ထိုသူသည်အသေသတ်ခြင်းကို ခံစေဟုထား
၁၁ သတည်း။ သင်တို့မူကား၊ အကြင်သူသည်ကိုယ်
မိဘကို၊ သင်တို့အသုံးရနိုင်သမျှသောငါ၏ဥစ္စာ
သည်အလှူဝတ္ထုတည်းဟူ သောကော်ဗန်ဖြစ်
၁၂ စေဟုဆို၏၊- ထိုသူသည်မိဘဝတ်ကိုအလျှင်းမ
၁၃ ပြုရဟုမြစ်တား၍၊-မိမိတို့အဆက်ဆက်ခံသော
နည်းဥပဒေသအားဖြင့် ဘုရားသခင်၏ နှုတ်က
ပတ်တော်ကို ပယ်ကြ၏။ ထိုသို့သော အကျင့်အ
လေ့များတို့ကိုသင်တို့သည် ကျင့်ဆောင်ကြသည်
ဟုမိန့်တော်မူ၏။
၁၄ ထိုအခါ လူ အစု အဝေး အ ပေါင်း ကို အ ထံ
တော်သို့ခေါ်၍၊ သင်တို့ရှိသမျှသည်နားထောင်
၁၅ နားလည်ကြလော့။- လူပြင်မှလာ၍ လူအတွင်း
သို့ဝင်လျက်၊ လူကိုညစ်ညူးစေနိုင်သော အရာ
တစုံတခုမျှ မရှိ။ လူအတွင်းမှ ထွက်သော အရာ
၁၆ သည်လူကိုညစ်ညူးစေသောအရာဖြစ်၏။-ကြား
စရာနားရှိသော သူ မည်သည်ကား၊ ကြား ပါစေ
၁၇ ဟု မိန့်တော်မူ၏။- လူအစု အဝေးရှိရာမှ ကြွ၍
အိမ်သို့ ဝင် တော် မူပြီး လျှင်၊ တပည့် တော် တို့
၁၈ သည်ထိုဥပမာကိုမေးမြန်းကြ၏။- ကိုယ်တော်
က လည်း၊ သင် တို့ သည် ဤမျှ လောက် ပညာမဲ့
သျက်နေသလော။ လူပြင်မှလာ၍ လူအတွင်းသို့
၁၉ ဝင်သမျှသည် နှလုံးထဲသို့ မဝင်၊- ဝမ်းထဲသို့
ဝင်၍အစာရှိသမျှကိုသန့်ရှင်းစေသဖြင့်ရေအိမ်
တွင် ဆင်းသွားသောကြောင့်၊ လူ ကို မညစ်ညူး
၂၀ စေနိုင်သည်ကို နားမလည်ကြသလော။- လူအ
တွင်းမှ ထွက်သောအရာမူကား၊ လူကို ညစ်ညူး
၂၁ စေသောအရာဖြစ်၏။- လူအတွင်း နှလုံးထဲက
ကောင်းသောကြံစည်ခြင်း၊ သူမယားကိုပြစ်မှား
ခြင်း၊ မိန်းမလွတ်နှင့်မှားယွင်းခြင်း၊ လူအသက်ကို
၂၂ သတ်ခြင်း၊- သူ ဥစ္စာကို ခိုးခြင်း၊ လောဘ လွန်
ကျူးခြင်း၊ မနာလိုခြင်း၊ လှည့်စားခြင်း၊ ညစ်ညူး
ခြင်း၊ မြူ ရူခြင်း၊ သူအသရေကိုဖျက်ခြင်း၊ ထောင်
၂၃ လွှားစော်ကားခြင်း၊ လျှပ်ပေါ်ခြင်း၊- ဤဆိုးညစ်
သော အရာများတို့သည် အတွင်းမှ ထွက်လာ၍
လူကိုညစ်ညူးစေကြသည်ဟုမိန့်တော်မူ၏။
၂၄ ကိုယ်တော်သည်ထိုအရပ်မှထ၍တုရုမြို့နှင့်ဇိ
ဒုန်မြို့၏ ကျေးလက်သို့ ကြွ တော်မူပြီးလျှင် အိမ်
သို့ ဝင်၍၊ အထံ ယ်သူမျှ မသိစေခြင်းငှါ အလို
တော်ရှိသော်လည်း ဝှန်းရှောင်၍ နေ တော်မမူ
၂၅ နိုင်။- အကြောင်းမူကား၊ ညစ်ညူးသော နတ်စွဲ
သောမိန်းမငယ်၏အမိသည် သိတင်းတော်ကိုကြား
၂၆ သဖြင့်၊လာ၍ ခြေတော်ရင်း၌ပြပ်ဝပ်လျက်၊- မိ
မိသမီးထဲက နတ်ဆိုးကို နှင်ထုတ်တော်မူမည်အ
ကြောင်းတောင်းပန်လေ၏။ ထိုမိန်းမကား၊ ဟေလ
၂၇ သအမျိုး၊ ရှုရိဖိနိတ်ပြည်သူဖြစ်သတည်း။-ယေ
ရှုကလည်း၊ရှေ့ဦးစွာသားများကိုဝစွာကျွေးပါ
ရစေ၊ သား၏ အစာကိုယူ၍ ခွေးအားမပေးမရှု
၂၈ အပ်ဟုမိန့်တော်မူ၏။- မိန်းမကလည်း၊ မှန်ပါ၏သ
ခင်၊ ခွေးမည်သည်ကား၊ သားတို့၏စားကြွင်းစား
ပေါက်ကိုစားပွဲအောက်၌ စားမြဲထုံးစံရှိပါသည်
၂၉ ဟု ပြန်၍ လျှောက် လျှင်၊- ကိုယ် တော်က၊ ထို
စကား ကြောင့် သင် သွားလော့၊ နတ်ဆိုးသည်
သင်၏သမီးထဲမှ ထွက် သွားပြီဟု မိန့်တော်မူ၏။-
၃၀ ထိုမိန်းမသည်မိမိအိမ်သို့ပြန်၍နတ်ဆိုးထွက်သွား
သည်ကိုငှင်၊ သမီးသည် အိပ်ရာ၌ အိပ်လျက်ရှိ
သည်ကိုငှင်တွေ့၏။
၃၁ တဖန်ကိုယ်တော်သည် တုရုမြို့နှင့် ဇိဒုန်မြို့၏
ကျေးလက်မှထွက်၍ဒေကာပေါလိပြည်နယ်ကို
ရှောက် သွား သ ဖြင့်၊ ဂါလိလဲ အိုင် သို့ ရောက်
၃၂ တော်မူ၏၊-ထိုအခါနားပင်း၍စကားအသောသူ
တယောက်ကို အထံတော်သို့ ဆောင်ခဲ့၍၊ သူ့အ
ပေါ် မှာ လက်တော်ကို တင် ပါမည် အကြောင်း
၃၃ တောင်းပန်ကြ၏၊-ကိုယ်တော်သည်ထိုသူကိုလူ
အစုအဝေးထဲက ခေါ်၍၊ ဆိတ်ကွယ်ရာ အရပ်
သို့ သွားပြီးလျှင်၊ ထက်ညှိုး တော်ကို သူ၏ နား
ပေါက်၌ သွင်းတော်မူ၏၊ တံတွေး နှင့်တွေး၍သူ
၃၄ ၏လျှာကိုလည်းထိတော်မူ၏၊-ထိုနောက်၊ကောင်း
ကင်သို့ကြည့်မျှော်၍ညည်းတွားသံကိုပြုလျက်၊
ဧဖသထ မိန့်တော်မူ၏၊ အနက်ကား၊ ပွင့်စေဟု
၃၅ ဆိုလိုသတည်း၊- ထိုခဏချင်းတွင် သူသည်နား
ပွင့်ခြင်း၊ လျှာချည်လွတ်ခြင်းရှိသဖြင့်စကားပြီ
၃၆ ပြီ ပြောနိုင်၏၊- ထို အကြောင်းကို အဘယ် သူ
အားမျှမပြောစေခြင်းငှါသူတို့ကိုပညတ်တော်မူ
၏၊ပညတ်တော်မူသော်လည်း သူတို့သည်အစ၍
၃၇ အ လွန် သိ တင်း ကြား ပြော ကြ ၏၊- အ ထိုင်း
ထက်အလွန်မိန်းမောတွေဝေလျက်ရှိ၍၊သူသည်
အလုံးစုံတို့ကိုလျှောက်ပတ်စွာပြုတော်မူပြီ၊နားမ
ပင်းသော သူတို့ကို ကြားစေတော်မူပြီ၊ အသော
သူတို့ကိုစကားပြောစေတော်မူပြီဟုဆိုကြ၏။

၈

၁ ထိုအခါစုဝေးသောသူအလွန်များ၍ စားစရာ
မရှိလျှင်၊ ယေရှုသည်တပည့်တော်တို့ကို ခေါ်
၂ ၍၊- ဤလူများကိုငါသနားး၏၊ သုံးရက်ပတ်လုံး
၃ ငါနှင့် အတူရှိကြပြီ၊ စားစရာအလျှင်းမရှိ၊- ထို
သူတို့သည် အဝေးကလာသည်ဖြစ်၍၊ အစာမ
စားမိသူတို့ အိမ်သို့ ငါလွှတ်လျှင်၊ လမ်းခရီး၌
၄ မောကြလိမ့်မည်ဟုမိန့်တော်မူ၏၊-တပည့်တော်
တို့ကလည်း၊ ဤတော အရပ်၌ ဤသူ တို့ ကို အ
ဘယ်သို့ဝစွာကျွေးနိုင်ပါမည်နည်းဟု လျှောက်
၅ ကြသော်၊-ကိုယ်တော်က၊ သင်တို့တွင်မုန့်အဘယ်
နှစ်လုံးရှိသနည်းဟု မေးတော်မူလျှင်၊ မုန့်ခုနစ်
၆ လုံးရှိပါသည်ဟုလျှောက်ကြ၏၊-ထိုအခါလူအ
စုအဝေးကို မြေပေါ်မှာလျောင်းကြစေဟု အမိန့်
တော်ရှိ၏၊ မုန့်ခုနစ်လုံးကိုယူ၍ကျေးဇူး
တော်ကိုချီးမွမ်းပြီးမှမုန့်ကိုဖဲ့၍၊ လူများတို့ရှေ့၌
ထည့်စေခြင်းငှါ၊တပည့်တော်တို့အားပေးတော်
၇ မူသည်အတိုင်းသူတို့သည်ထည့်ကြ၏၊- အနည်း
ငယ်မျှသော ငါးကောင်ကလေးလည်းရှိသည်
ဖြစ်၍၊ ကျေးဇူးတော်ကို ချီးမွမ်းပြီးမှ လူများ
၈ ရှေ့၌ ထည့်စေခြင်းငှါ မိန့်တော်မူ၏၊- ထိုသူတို့
သည် စား၍ဝကြပြီးမှ၊ ကြွင်းရစ်သော အကျိုး
အပဲ့ကိုကောက်သိမ်း၍ ခုနစ်တောင်းအပြည့်ရ
၉ ကြ၏၊- စားသောသူ အရေအတွက် ကား၊ လူ
လေးထောင်မျှလောက်ရှိသတည်း၊ ထိုသူတို့ကို
၁၀ လွှတ်တော်မူပြီးမှ၊- တပည့်တော်တို့နှင့်တကွ
လှေထဲသို့ချက်ချင်းဝင်၍၊ဒါလမနုသကျေးထက်
သို့ရောက်တော်မူ၏။

၁၁ ထိုအခါ ဖာရိရှဲတို့သည် ထွက်လာ၍ ကိုယ်
တော်နှင့်ဆွေးနွေးငြင်းခုံသည်တွင်စုံစမ်းနှောင့်
ရှက်ခြင်းငှါ၊ မိုဃ်းကောင်းကင်က ဖြစ်သော
၁၂ နိမိတ်လက္ခဏာကိုတောင်းကြ၏၊- ကိုယ်တော်
သည် စိတ်နှစ်လုံး ညည်းတွား သံကို ပြုတော်မူ
လျက်၊ ဤ လူမျိုး သည် နိမိတ် လက္ခဏာ ကို အ
ဘယ်ကြောင့်တောင်းသနည်း၊ ငါအမှန်ဆိုသည်
ကား၊ဤလူမျိုးအားနိမိတ်လက္ခဏာကို မပြရဟု
၁၃ မိန့်တော်မူပြီးလျှင်၊- ထိုသူတို့ရှိရာမှထွက်၍ အ
ဖန် လှေထဲသို့ ဝင်ပြီးလျှင်၊ ကမ်းတဖက်သို့ ပြန်
တော်မူ၏။

၁၄ တပည့် တော်တို့သည် မုန့်ကိုယူခြင်းငှါ မေ့
လျော့ကြသဖြင့်၊ လှေပေါ်မှာ သူတို့၌ မုန့်တလုံး
၁၅ တည်းသာရှိ၏၊- ကိုယ်တော်ကလည်း၊ ဖာရိရှဲ
တို့၏ တဆေးကိုင်၎င်း၊ ဟေရုဒ်၏ တဆေးကို၎င်း
သတိနှင့် ကြည့်ရှောင်ကြဟု ပညတ်တော်မူ၏။
၁၆ ထိုအခါတပည့်တော်တို့ကလည်း၊ ငါတို့၌မုန့်မပါသော
ကြောင့်၊ဤစကားကိုမိန့်တော်မူသည်ဟု အချင်း
၁၇ ချင်းဆွေးနွေးပြောဆိုကြ၏၊- ယေရှုသည် သိ
တော်မူလျှင်၊ သင်တို့၌မုန့်မပါသည်ကို ထောက်
၍၊ အဘယ်ကြောင့် အချင်းချင်း ဆွေးနွေး ပြော
ဆိုကြသနည်း၊ ယခုတိုင်အောင်နှစ်လုံးမသွင်း၊
နားမလည်ကြသလော၊ သင်တို့စိတ်နှလုံးမိုက်
၁၈ သေးသလော၊- မျက်စိရှိလျက်ပင် မမြင်၊ နားရှိ
လျက်ပင်မကြား၊ စိတ်မထောင်းမေ့အဲ့နေကြသ
၁၉ လော၊- မုန့် ငါးလုံးကို လူ ငါးထောင်အား ငါ
ဖဲ့သော အခါ အကျိုး အပဲ့ ထည့် နှစ်တောင်း
ကောက် သိမ်း သနည်းဟု မေးတော်မူလျှင်၊ တ
ဆယ် နှစ် တောင်း ကောက် သိမ်း ပါသည် ဟု
၂၀ လျှောက်ကြ၏၊- မုန့်ခုနစ်လုံးကိုလူလေးထောင်
အား ငါ ဖဲ့သော အ ခါ အ ကျိုး အပဲ့ ထည့် နှစ်
တောင်း ကောက်သိမ်း သနည်းဟု မေးတော်မူ
လျှင်၊ ခုနစ်တောင်း ကောက် သိမ်း ပါ သည် ဟု
၂၁ လျှောက် ကြ ၏၊- သို့ ဖြစ် လျှင်၊ သင် တို့ သည်
နားမလည်ဘဲ အဘယ် သို့ နေကြသနည်းဟု မိန့်
တော်မူ၏။

၂၂ ဗက်ဇဲဒမြို့သို့ရောက်တော်မူလျှင်၊လူကန်းတ
ယောက်ကို အထံတော်သို့ ဆောင်ခဲ့၍၊ ထိုသူကို
တို့တော်မူမည် အကြောင်း တောင်းပန်ကြ၏၊-
၂၃ ကိုယ်တော်သည် လူကန်းကို လက်ဆွဲ၍ မြို့ပြင်
သို့ထွက်ပြီးမှ၊သူ၏မျက်စိကိုတံတွေးနှင့် တွေး၍
သူ အပေါ်မှာ လက် တော် ကို တင် လျက်၊ သင်
သည်တစုံတခုကိုမြင်သလောဟုမေးတော်မူ၏၊
၂၄ ထိုသူသည်ကြည့်မျှော်လျှင်၊ လူတို့သည်သစ်ပင်
ကဲ့သို့ဖြစ်၍လှမ်းသွားသည်ကို အကျွန်ုပ်မြင်ပါ
၂၅ သည်ဟုလျှောက်၏၊- နောက်တဖန်သူ၏မျက်စိ
ပေါ်မှာ လက် တော် ကို တင်၍ ကြည့် မျှော် စေ
တော်မူလျှင်၊ သူသည် ပကတိ အဖြစ်သို့ ရောက်
၂၆ ၍အလုံးစုံတို့ကိုရှင်းလင်းစွာမြင်လေ၏၊-ကိုယ်
တော်ကလည်း၊ မြို့ထဲသို့မဝင်နှင့်၊မြို့၌ အဘယ်
သူကိုမျှ မပြောနှင့်ဟုမိန့်တော်မူ၍၊ သူကိုမိမိနေ
ရာသို့လွှတ်လိုက်လေ၏။

၂၇ ယေရှုသည်ဖိလိပ္ပုကဲသရိမြို့၏ ကျေးထက်သို့
တပည့်တော်တို့နှင့်တကွကြွတော်မူစဉ်၊ လမ်း
ခရီး၌လူများတို့သည်ငါကိုအဘယ်သူဖြစ်သည်
ဆိုကြသနည်းဟု၊ တပည့်တော်တို့ကို မေးမြန်း

၂၈ တော်မူလျှင်၊- လူအချို့က၊ ကိုယ်တော်သည်နှစ်
ခြင်းဆရာယောဟန်ဖြစ်သည်ဟူ၍၎င်း၊ အချို့
က၊ ဧလိယဖြစ်သည်ဟူ၍၎င်း၊ အချို့က၊ ပရော
ဖက်တပါးပါးဖြစ်သည်ဟူ၍၎င်း ဆိုကြပါ၏
၂၉ ဟု လျှောက်ကြသော်၊- သင်တို့လည်း ငါ့ကို အ
ဘယ်သူဖြစ်သည် ဆိုကြသနည်းဟု မေးမြန်း
တော်မူလျှင်၊ ပေတရုက၊ ကိုယ်တော်သည်ခရစ်
တော်ဖြစ်တော်မူသည်ဟု လျှောက်လေ၏။-
၃၀ ကိုယ်တော်၏ အကြောင်းကို အဘယ်သူအား
မျှမပြောစိမ့်သောငှါ၊ တပည့်တော်တို့ကိုပညတ်
တော်မူ၏။
၃၁ ထိုမှတပါး၊ လူသားသည်များစွာခံရမည်၊ လူ
အကြီးအကဲ၊ ယဇ်ပုရောဟိတ်အကြီး၊ ကျမ်းပြု
ဆရာတို့၏ ငြင်းပယ်ခြင်းကို၎င်း၊ အသေသတ်
ခြင်းကို၎င်း ခံရမည်၊ သုံးရက်မြောက်သောနေ့၌
ထမြောက်လိမ့်မည်ဟူသော အကြောင်းများကို
၃၂ တပည့်တော်တို့အားပြစပြုတော်မူ၏။ ထိုသို့အ
တည့်အထင်း ပြတော်မူသောကြောင့် ပေတရု
သည်ကိုယ်တော်ကိုမိမိနှင့်အတူခေါ်၍၊ အပြစ်
၃၃ တင်သောစကားကိုလျှောက်သော်၊- ကိုယ်တော်
သည်မျက်နှာတော်ကိုလှည့်၍ တပည့်တော်တို့
ကို ကြည့်ရှုလျက်၊ အချင်းရန်သူ၊ ငါ့နောက်သို့
ဆုတ်လော့၊ သင်သည် ဘုရားသခင်၏ အရာကို
စိတ်မစွဲလမ်း၊ လူတို့၏အရာကိုသာစွဲလမ်းသည်
ဟူ၍၊ ပေတရုကိုဆုံးမတော်မူ၏။
၃၄ ထိုအခါတပည့်တော်တို့နှင့်ပရိသတ်များကို
ခေါ်တော်မူပြီးလျှင်၊ အကြင်သူသည်ငါ့၌ဆည်း
ကပ်ခြင်းငှါအလိုရှိ၏၊ ထိုသူသည်ကိုယ်ကိုကိုယ်
ငြင်းပယ်ရမည်၊ ကိုယ်လက်ဝါးကပ်တိုင်ကို
၃၅ ထမ်း၍ ငါ့နောက်သို့ လိုက်ရမည်။- အကြင်သူ
သည် မိမိအသက်ကို ကယ်ဆယ်ခြင်းငှါ အလို
ရှိ၏၊ ထိုသူသည်အသက်ရှုံးလိမ့်မည်၊ အကြင်သူ
သည် ငါ့ကြောင့်၎င်း၊ ဧဝံဂေလိတရားကြောင့်၎င်း
အသက်ရှုံး၏၊ ထိုသူသည် မိမိအသက်ကို ကယ်
၃၆ ဆယ်လိမ့်မည်။- လူသည် ဤစကြဝဠာကို အ
ကြွင်းမဲ့ အစိုးရ၍ မိမိအသက်ဝိညာဉ်ရှုံးလျှင်၊
၃၇ အဘယ်ကျေးဇူးရှိသနည်း။- မိမိအသက်ဝိညာဉ်
၃၈ ကိုအဘယ်ဥစ္စာနှင့်ရွေးနိုင်သနည်း။- မှောက်မ
ှားသောဤလူမျိုးဆိုးတွင်အကြင်သူသည်ငါ့ကို
၎င်း၊ ငါ့စကားကို၎င်း ရှက်၏၊ လူသားသည် မိမိ
အဖခမည်းတော်၏ ဘုန်းအာနုဘော်ကိုဆောင်
လျက်၊ သန့်ရှင်းသောကောင်းကင်တမန်အခြံအ
ရံတို့နှင့် ကြွလာသောအခါ၊ ထိုသူကိုရှက်တော်
မူလတ္တံ့။

## ၉

၁ ငါအမှန်ဆိုသည်ကား၊ ဘုရားသခင်၏ နိုင်ငံ
တော်သည်တန်ခိုးနှင့်တကွတည်ရောက်ခြင်းကို၊ ဤ
အရပ်၌ရှိသောသူအချို့တို့သည် မမြင်မှီသေခြင်း
သို့မရောက်ရကြဟုမိန့်တော်မူ၏။
၂ ခြောက်ရက်လွန်သောအခါ ယေရှုသည်ပေတ
ရု၊ ယာကုပ်၊ ယောဟန်တို့ကိုခေါ်၍၊ အခြားသူမ
ပါဘဲမြင့်လှစွာသောတောင်ပေါ်တွင်ဆိတ်ကွယ်
ရာအရပ်သို့ဆောင်ကြွတော်မူ၏။ သူတို့ရှေ့၌ထူး
ခြားသော အဆင်းအရောင်နှင့် ပြည့်စုံသည်ဖြစ်
၃ ၍၊- အဝတ်တော်သည် ပြောင်လက်လျက်၊ ဤ
မြေပေါ်၌ အဘယ်ခဝါသည်မျှ မတတ်နိုင်
အောင် မိုးပွင့်ကဲ့သို့ အလွန်ဖြူလျက် ရှိ၏။-
၄ မောရှေနှင့် ဧလိယသည် ထင်ရှား၍ ယေရှုနှင့်
၅ အတူစကားပြောလျက်ရှိ၏။- ထိုအခါ ပေတရု
က၊ အရှင်ဘုရား၊ ဤအရပ်၌နေဖွယ်ကောင်းပါ၏။
ကိုယ်တော်အဘို့ တဲတဆောင်၊ မောရှေအဘို့ တ
ဆောင်၊ ဧလိယအဘို့တဆောင်၊ တဲသုံးဆောင်ကို
အကျွန်ုပ်တို့ ဆောက်လုပ်ပါရစေဟု လျှောက်
၆ လေ၏။- တပည့်တော်တို့သည် အလွန်ကြောက်
သောကြောင့် ပေတရု သည် ယောင်ယမ်း၍ ထို
၇ သို့လျှောက်သတည်း။- ထိုအခါမိုဃ်းတိမ်သည်
သူတို့ကိုလွှမ်းမိုး၍၊ ဤသူသည်ငါ၏ချစ်သားပေ
တည်း၊ သူ၏စကားကို နားထောင်ကြလော့ဟု၊
၈ မိုဃ်းတိမ်က အသံတော်ဖြစ်လေ၏။- ထိုခဏ
ချင်းတွင် တပည့်တော်တို့ သည် ပတ်လည်သို့
ကြည့်ရှုလျှင်၊ မိမိတို့နှင့်အတူ ယေရှုတပါးသာ
တည်းမှတပါး အဘယ်သူကိုမျှမမြင်ကြ။
၉ တောင်ပေါ်မှဆင်းကြသောအခါ ကိုယ်တော်
က၊ လူသားသည်သေခြင်းမှ မထမြောက်မှီတိုင်
အောင် သင်တို့ယခုမြင်သော အရာကို အဘယ်
သူအားမျှမကြားမပြောကြနှင့်ဟု၊ တပည့်တော်
၁၀ တို့ကိုပညတ်တော်မူ၏။- တပည့်တော်တို့သည်
ထိုစကားကိုမှတ်မိ၍၊ သေခြင်းမှ ထမြောက်ခြင်း
သည် အဘယ်သို့ ဆိုလိုသနည်းဟု၊ အချင်းချင်း
၁၁ ဆွေးနွေးမေးမြန်းကြ၏။- ထိုအခါတပည့်တော်
တို့က၊ ဧလိယသည် အရင်လာမည်ဟု ကျမ်းပြု
ဆရာတို့သည် အဘယ်ကြောင့် ဆိုပါသနည်းဟု
၁၂ မေးလျှောက်ကြလျှင်၊- ကိုယ်တော်က၊ ဧလိယ
သည် အရင်လာ၍ အလုံးစုံတို့ကို ပြုပြင်ရသည်

ခံရန်ပေ၏၊ လူသားသည်လည်း အထွန်ဆင်းရဲ၍
ကဲ့ရဲ့ပယ်ထားခြင်းကို ခံရမည်ဟုကျမ်းစာထား
၁၃ ၏။— ငါဆိုသည်ကား၊ ဧလိယသည်ရောက်လေ
ပြီ၊ သူ၏အကြောင်းကို ကျမ်းစာ၌ရေးထားသည့်
အတိုင်း လူများသည် သူ့အား ပြုချင်သမျှကို ပြု
ကြပြီဟုမိန့်တော်မူ၏။
၁၄ တပည့်တော်တို့ရှိရာသို့ ရောက်တော်မူသော
အခါ များစွာသော လူအစုအဝေးထည် သူတို့ကို
ဝိုင်း၍လျက်၊ကျမ်းပြုဆရာတို့သည်သူတို့နှင့်ဆွေး
၁၅ နွေးမေးမြန်းကြသည်ကိုမြင်တော်မူ၏။— စုဝေး
လျက်ရှိသော လူအပေါင်းတို့သည် ကိုယ်တော်
ကိုမြင်လျှင်၊ ချက်ချင်း ထိတ်လန့်မိန်းမောခြင်း ရှိ
လျက် အထံတော်သို့ ပြေး၍ နှုတ် ဆက်ကြ၏။—
၁၆ ကိုယ်တော်ကလည်း၊ သင်တို့သည်သူတို့နှင့်အ
ဘယ် သို့ ဆွေး နွေး မေး မြန်း ကြ သ နည်း ဟု၊
၁၇ ကျမ်းပြုဆရာတို့ကိုမေးတော်မူလျှင်၊-လူအစုအ
ဝေး၌ပါသော သူတယောက်က၊ အရှင်ဘုရား၊
အသောနှုတ် အစွဲခံရသော အကျွန်ုပ်၏ သားကို
၁၈ အထံတော်သို့ဆောင်ခဲ့ပါပြီ။—နှုတ်သည်ဖမ်းစား
လေရာရာ၌သူကို မြေပေါ်မှာလှည်း၍၊ သူသည်
လည်း၊ ခံတွင်းမှ အမြှုပ်ထွက်လျက်၊ အံသွားခဲ
ကြိတ်လျက်၊ပိန်ခြောက်လျက်နေရပါ၏။ထိုနှုတ်
ကို နှင်ထုတ်ပါမည်အကြောင်း တပည့်တော်တို့
အား အကျွန်ုပ်လျှောက်၍၊ သူတို့သည် မတတ်
၁၉ နိုင်ကြပါဟုလျှောက်သော်၊-ကိုယ်တော်က၊ယုံ
ကြည်ခြင်းမရှိသောအမျိုး၊ ငါသည်သင်တို့နှင့်
တကွအဘယ်မျှကာလပတ်လုံး နေရမည်နည်း။
သင်တို့ကို အဘယ်မျှကာလပတ်လုံး သည်းခံရ
မည်နည်း၊သူငယ်ကိုငါ့ထံသို့ယူခဲ့ကြဟုမိန့်တော်
၂၀ မူသည်အတိုင်း၊— ယူခဲ့ကြ၏။ထိုနှုတ်သည်ကိုယ်
တော်ကိုမြင်လျှင်၊ချက်ချင်းသူငယ်ကိုတောင့်မာ
စေသဖြင့်သူငယ်သည်မြေပေါ်မှာလဲ၍ အမြှုပ်
၂၁ ထွက်လျက်၊ ကိုယ်ကို လှိမ့်လျက်နေ၏။— ကိုယ်
တော်ကလည်း၊ ဤသို့ဖြစ်သည်ကား၊ အဘယ်
မျှလောက် ကြာပြီနည်းဟု၊ သူငယ်၏ အဖအား
မေးတော်မူလျှင်၊ အဖက၊ ငယ်သောအရွယ်က
၂၂ ပင်ဖြစ်ပါ၏။— သူငယ်ကိုသေစေခြင်းငှါမီး၌၎င်း၊
ရေ၌၎င်း၊ အကြိမ်ကြိမ် လဲ့စေတတ်၏။ သို့သော်
လည်း၊ ကိုယ်တော်သည်တတ်နိုင်တော်မူလျှင်၊
အကျွန်ုပ်တို့ကို သနား၍ ကယ်မတော်မူပါ ဟု
၂၃ လျှောက်လေ၏။— ယေရှုကလည်း၊ သင်သည်ယုံ
ကြည်နိုင်သလော၊ ယုံကြည်သော သူဖြစ်လျှင်၊
ခပ်သိမ်းသော အမှုတို့ကို တတ်နိုင်သည်ဟု မိန့်
၂၄ တော်မူ၏။— သူငယ်၏ အဖသည် ချက်ချင်းဟစ်
ကြော်၍၊ အကျွန်ုပ် ယုံကြည်ပါ၏၊ သခင်၊ မယုံ
ကြည်သည်ကို မစတော် မူပါဟု၊ မျက်ရည် နှင့်
၂၅ လျှောက်ပြန်လေ၏။— ထိုအခါလူများတို့သည်စု
ဝေးလျက်ပြေးလာကြသည်ကို ယေရှုသည်မြင်
လျှင်၊ နားပင်း၍ ဆွံ့အသောနှုတ်၊ သူငယ်မှ
ထွက်လော့၊နောက်တဖန်မဝင်နှင့်၊ငါအမိန့်ရှိ၏
ဟု၊ထိုညစ်ညူးသောနှုတ်ကိုဆုံးမ၍မိန့်တော်မူသ
၂၆ ဖြင့်၊— နှုတ်သည် အော်ဟစ်၍ အလွန်တောင့်မာ
စေပြီးမှထွက်သွား၏။သူငယ်သည်သေသကဲ့သို့
၂၇ ဖြစ်၏၊ သေပြီဟုလူများဆိုကြ၏။— ယေရှုသည်
သူ၏လက်ကိုကိုင်၍ ချီကြွတော်မူသဖြင့်သူသည်
ထလေ၏။
၂၈ အိမ်သို့ဝင်တော်မူပြီးမှ တပည့်တော် တို့က၊
အကျွန်ုပ်တို့သည် ထိုနှုတ်ကို အဘယ်ကြောင့်မ
နှင်ထုတ်နိုင်ပါသနည်းဟု၊ တိတ်ဆိတ်စွာ မေး
၂၉ လျှောက်ကြသော်၊— ကိုယ်တော်က၊ ဆုတောင်း
ခြင်း၊အစာရှောင်ခြင်းမှတပါးအဘယ်သို့သော
အားဖြင့် ထိုနှုတ်မျိုး သည် မထွက် နိုင် ဟု မိန့်
တော်မူ၏။
ထိုအရပ်မှ ထွက်၍ ဂါလိလဲ ပြည် အလယ်၌
ရှောက်သွားကြစဉ်တွင်အဘယ်သူမျှသိစေခြင်း
၃၀ ငှါအလိုတော်မရှိ၊— အကြောင်းမူကား၊လူသား
သည် လူတို့လက်သို့ အပ်နှံ ခြင်းကို၎င်း၊ အသေ
၃၁ သတ်ခြင်းကို၎င်းခံရမည်။—ခံပြီးမှသုံးရက်မြောက်
သော နေ့၌ ထ မြောက် လိမ့် မည် ဟူ သော အ
ကြောင်းများကို တပည့်တော်တို့အား ပြတော်မူ
၃၂ ၏၊ ထိုအကြောင်းများကိုသူတို့သည်နားမလည်
သော်လည်း၊ ကိုယ်တော် ကို မမေး မလျှောက်
ဝံ့ကြ။
၃၃ ကပေရနောင်မြို့သို့ ရောက်၍အိမ်၌ရှိတော်မူ
လျှင်၊ သင်တို့သည်လမ်း၌ အဘယ်အမှုကို အ
ချင်းချင်းငြင်းခုံကြသနည်းဟု မေးတော်မူသည်
၃၄ ကို၊— သူတို့သည် တိတ် ဆိတ် စွာ နေ ကြ၏၊ အ
ကြောင်း မူကား၊ အဘယ်သူသည် သာ၍ ကြီး
မြတ်သနည်းဟု၊ လမ်း၌ အချင်းချင်း ငြင်းခုံကြ
၃၅ ၏။—ထိုအခါကိုယ်တော်သည်ထိုင်လျက်တကျိပ်
နှစ်ပါးတို့ကို ခေါ်တော်မူ၍၊ အရင်အဦး ဖြစ်လို
သောသူမည်သည်ကား၊ နောက်ဆုံးဖြစ်ရမည်။
အလုံးစုံတို့၏ အစေခံ လည်း ဖြစ် ရမည် ဟု မိန့်
၃၆ တော်မူ၏။—သူငယ်တယောက်ကိုယူ၍ထူ၍သူ

တို့အထဲ၌ ထားပြီးမှ ထက်တော်နှင့် ဖြိုက်
၃၇ လျက်၊- အကြင်သူသည် ငါ့နာမကို ထောက်
၍ ဤ ကဲ့ သို့သော သူငယ်တစုံ တယောက် ကို
ထက်ခံ၏၊ ထိုသူသည် ငါ ကိုပင်ထက်ခံ၏။ ငါ့ကို
ထက်ခံ သော သူ သည်ထည်း၊ ငါ ကိုသာ ထက်ခံ
သည်မဟုတ်၊ ငါ့ကိုစေလွှတ်တော်မူသော သူကို
ပင်ထက်ခံသည်ဟုမိန့်တော်မူ၏။
၃၈ ယောဟန်ကလည်း၊ အရှင်ဘုရား၊ အကျွန်ုပ်
တို့နှင့်အတူမလိုက်ဘဲလျက်၊ ကိုယ်တော်၏နာမ
ကိုအမှီပြု၍ နတ်ဆိုးတို့ကို နှင်ထုတ်သောသူတ
ယောက် ကို အကျွန်ုပ်တို့ တွေ့ ပါ၏။ သူသည် အ
ကျွန်ုပ်တို့နှင့်အတူမလိုက်သောကြောင့်အကျွန်ုပ်
တို့သည် မြစ်တားကြပါသည်ဟု လျှောက် ထေ
၃၉ သော်၊- ယေရှုက၊ ထိုသူကို မမြစ်တားကြနှင့်၊
ငါ့နာမကိုအမှီပြုလျက် တန်ခိုးကိုပြ၍၊ ငါ့ ကို အ
လွယ်တကူကဲ့ရဲ့နိုင်သောသူတယောက်မျှမရှိ။-
၄၀ သင်တို့၏ရန်သူဘက်၌မရှိသောသူသည်သင်တို့
၄၁ ဘက်၌ ရှိ၏။- သင်တို့သည် ခရစ်တော်နှင့် ဆိုင်
သည်ဟုငါ့နာမကိုထောက်၍၊ အကြင်သူသည်
သင်တို့အား ရေတခွက်ကိုမျှပေး၏၊ ထိုသူသည်
အကျိုးကိုမရဘဲမနေရာ။ငါအမှန်ဆို၏။
၄၂ ငါ့ကိုယုံကြည်သော ဤသူငယ်တစုံ တယောက်
ကိုအကြင်သူသည် မှားယွင်းစေ၏၊ ထိုသူသည်
ထည်ပင်း၌ ကြိတ်ဆုံကျောက်ကိုဆွဲ၍ ပင်လယ်
၌ချခြင်းကို ခံရလျှင်၊ အနေသာ၍ ကောင်း၏။-
၄၃ သင်၏လက်သည်သင့်ကို မှားယွင်းစေလျှင်ထက်
၄၄ ကိုဖြတ်လော့၊- ပိုးမသေ၊ မီးမငြိမ်းရာ၊ ငရဲအ
တွင်း၊ မငြိမ်းနိုင်သောမီးထဲသို့ ထက်နှစ်ဖက်စုံ
နှင့်ဝင်ရသည်ထက်၊ ထက်ကျိုးတဲ့၍ အသက်ရှင်
၄၅ ခြင်းသို့ ဝင်စားသော်သာ၍ ကောင်း၏။- သင်၏
ခြေသည် သင့်ကို မှားယွင်းစေလျှင် ခြေကို ဖြတ်
၄၆ လော့။- ပိုးမသေ၊ မီးမငြိမ်းရာ၊ ငရဲအတွင်း၊ မ
ငြိမ်းနိုင်သောမီးထဲသို့ ခြေနှစ်ဖက်စုံနှင့် ချခြင်း
ကိုခံရသည်ထက်၊ ခြေကျိုးတဲ့၍ အသက်ရှင်ခြင်း
၄၇ သို့ဝင်စားသော်သာ၍ကောင်း၏။-သင်၏မျက်စိ
သည်ထည်းသင့်ကိုမှားယွင်းစေလျှင် မျက်စိကို
၄၈ ထုတ်ပစ်လော့၊-ပိုးမသေ၊မီးမငြိမ်းရာ၊ငရဲမီးထဲသို့
မျက်စိနှစ်ဖက်စုံနှင့်ချခြင်းကိုခံရသည်ထက်၊မျက်
စိတဖက်နှင့်ဘုရားသခင်၏ နိုင်ငံတော်သို့ဝင်စား
၄၉ သော်သာ၍ကောင်း၏။- ယဇ်ကောင်မှိသမျှတို့
၌ဆားခတ်ရသကဲ့သို့၊ခပ်သိမ်းသောသူတို့သည်
၅၀ မီးဆား ခတ်ခြင်းကို ခံရကြမည်။- ဆားသည်
ကောင်း၏၊ သို့သော်လည်း၊ ဆားငန်ကင်းပျောက်
လျှင်၊ငန်သောအရသာကိုအဘယ်သို့ရပြန်မည်
နည်း။ သင်တို့၌ဆားရှိစေကြလော့၊ အချင်းချင်း
အသင့်အတင့်နေကြလော့ဟုမိန့်တော်မူ၏။

၁၀

၁ ထိုအရပ်မှ ကိုယ်တော်သည် ထွက်တော်မူ၍ ယော်ဒန်
မြစ်တဖက်ကိုရှောက်သွားထဖြင့် ယုဒပြည်စွန်း
သို့ရောက်တော်မူ၏၊လူများတို့သည်အထံတော်၌
စုဝေးပြန်၍၊ ထုံးစံရှိတော်မူသည်အတိုင်းတဖန်
၂ ဆုံးမ သွန်သင်တော်မူ၏။- ဖာရိရှဲတို့ သည်
အထံတော်သို့လာ၍၊လူသည်မိမိမယားနှင့်ကွာ
အပ်သလောဟု၊ စုံစမ်းနှောင့်ရှက်ခြင်းငှါ မေး
၃ လျှောက်ကြသော်၊-ယေရှုက၊မောရှေသည်သင်
တို့အား အဘယ်သို့စီရင်သနည်းဟု ဖြန့်၍မေး
၄ တော်မူလျှင်၊-သူတို့က၊ဖြတ်စာကိုပေး၍မယား
နှင့် ကွာ စေ ခြင်း ငှါ မော ရှေ စီ ရင် ပါ သည် ဟု
၅ လျှောက်ကြ၏။- ယေရှုကလည်း၊ သင်တို့ စိတ်
နှစ် ထုံး မိုင်း မာ သောကြောင့် မောရှေ သည် ထို
၆ ပညတ်ကိုရေးထားသတည်း။-ဘုရားသခင်ဖန်
ဆင်းတော်မူစက ယောကျ်ားနှင့် မိန်းမနှစ်ယောက်
၇ တည်းကို ဖန်ဆင်း တော် မူ၏။- ထိုအကြောင်း
ကြောင့် ယောကျ်ားသည် ကိုယ်မိဘကို စွန့်၍
၈ ကိုယ် ခင် ပွန်း၌မှီဝဲသဖြင့်၊- ထို သူနှစ်ယောက်
တို့သည်တသားတကိုယ်တည်းဖြစ်ရလိမ့်မည်။
ထိုကြောင့်၊ ထင်မယားတို့သည် နှစ်ဦးမဟုတ်၊
၉ တဦးတည်းဖြစ်၏။- ဘုရားသခင်တွဲဖက်၍ထမ်း
ထိုး တင်တော်မူသောအရာကိုလူမခွဲမခွာစေနှင့်
ဟုမိန့်တော်မူ၏။
၁၀ နောက်တဖန် တပည့်တော်တို့သည် အိမ်၌ရှိ
စဉ်၊ထိုအကြောင်းကို မေးလျှောက်ပြန်ကြ၏။-
၁၁ ကိုယ် တော်ကလည်း၊ အကြင်သူသည် မယား
နှင့်ကွာ၍ အခြားသောမိန်းမနှင့် စုံဖက်ခြင်းကို ပြု
၁၂ ၏၊ ထို သူသည် မိမိ မယားကို ပြစ်မှား၏။- မိန်း
မသည် ထည်း၊ မိမိ ထင်နှင့် ကွာ၍ အခြား သော
ယောကျ်ားနှင့်စုံဖက်ခြင်းကိုပြုလျှင်၊ မှားယွင်း
ခြင်းသို့ရောက်သည်ဟုမိန့်တော်မူ၏။
၁၃ ထိုအခါ သူငယ်တို့ကို ထက်တော်နှင့် တို့စေ
ခြင်းငှါ အထံတော်သို့ ဆောင်ခဲ့သည်ဖြစ်၍၊ ထ
ပည့်တော်တို့သည်ဆောင်ခဲ့သောသူတို့ကို အပြစ်
၁၄ တင်ကြ၏။-ယေရှုသည်မြင်တော်မူလျှင်အမျက်
တော်ထွက်၍၊ ထိုသူငယ်တို့ကို ငါ ထံသို့ လာပါ
စေ။ မမြစ်တားကြနှင့်၊ ဘုရားသခင်၏ နိုင်ငံ

၁၅ တော်သည်ထိုသို့သောသူတို့၏နိုင်ငံဖြစ်၏။-ငါအ
မှန်ဆိုသည်ကား၊ အကြင်သူသည်ဘုရားသခင်
၏ နိုင်ငံ တော်ကို သူငယ် ကဲ့သို့ မခံ မယူ၊ ထိုသူ
သည် နိုင်ငံတော်သို့မဝင်ရဟုမိန့်တော်မူပြီးမှ၊-
၁၆ သူငယ် တို့ကို ချီ ပိုက်၍၊ သူတို့ အပေါ်မှာလက်
တော်ကိုတင်လျက်ကောင်းကြီးပေးတော်မူ၏။
၁၇ ထမ်းမှာ ကြွ တော်မူစဉ်တွင် လူ တယောက်
သည် အထံတော်သို့ ပြေး၍ ဒူးထောက်လျက်၊
ကောင်းမြတ်သော ဆရာ၊ ထာဝရ အသက် ကို
အမွေခံရအံ့သောငှါ အကျွန်ုပ်သည် အဘယ်အ
မှုကိုပြုရပါမည်နည်းဟု မေးလျှောက် သော်၊-
၁၈ ယေရှုက၊ ငါ့ကို ကောင်းမြတ် သည်ဟု အဘယ်
ကြောင့်ခေါ်သနည်း။ ဘုရားသခင်တပါးတည်း
၁၉ သာကောင်းမြတ်တော်မူ၏။- သင်သည် ပညတ်
တော်တို့ကို သိသည်မဟုတ်လော။ သူမယားကို
မပြစ်မှားနှင့်၊ လူ့အသက်ကိုမသတ်နှင့်၊ သူဥစ္စာ
ကိုမခိုးနှင့်၊ မမှန်သောသက်သေကိုမခံနှင့်၊ သူ
ဥစ္စာကို မတရားသဖြင့် မသိမ်းနှင့်၊ မိဘကို ရို
၂၀ သေ စွာ ပြုလော့ ဟု မိန့် တော် မူ လျှင်၊- အရှင်
ဘုရား၊ ထိုပညတ် ရှိသမျှတို့ကို အကျွန်ုပ်သည်
ငယ်သော အရွယ်မှစ၍ စောင့် ရှောက် ပါ ပြီဟု
၂၁ လျှောက်ပြန်လျှင်၊-ယေရှုသည်၊ထိုသူကိုကြည့်
ရှုလျက် ချစ်သော စိတ်ရှိ၍၊ သင် သည် တခုလို
သေး၏။သွား၍လော့၊ ကိုယ်ဥစ္စာရှိသမျှကိုရောင်း
၍၊ ဆင်းရဲ သောသူတို့အား ပေးလော့။ ထိုသို့ပြု
လျှင်၊ ကောင်းကင်ဘုံ၌ ဘဏ္ဍာကို ရလိမ့်မည်။
သို့ပြီးမှထာ၍လက်ဝါးကပ်တိုင်ကိုထမ်းလျက်
၂၂ ငါ့နောက်သို့ လိုက်လော့ဟုမိန့်တော်မူ၏။- ထိုသူ
သည်များစွာသောဥစ္စာကို ရတတ်သော သူဖြစ်
၍၊ ထိုစကားကိုကြားလျှင် မျက်နှာပျက်၍စိတ်
မသာသည်နှင့်သွားလေ၏။
၂၃ ယေရှုကလည်း၊ ဥစ္စာရတတ်သော သူသည်
ဘုရားသခင်၏ နိုင်ငံ တော်သို့ အလွန် ဝင်ခဲ လှ၏
ဟု၊ ပတ်လည်သို့ကြည့်ရှု၍တပည့်တော်တို့အား
၂၄ မိန့်တော်မူ၏။- တပည့်တော်တို့သည် ထိုစကား
ကို ကြားလျှင် မိန်းမောတွေဝေခြင်းရှိကြ၏။ တ
ဖန်ယေရှုက၊ငသားတို့၊ မိမိဥစ္စာကိုမှီခိုသောသူ
သည် ဘုရားသခင်၏ နိုင်ငံတော်သို့ အလွန်ဝင်ခဲ
၂၅ လှ၏။- ကုလားအုတ် သည် အပ် နဖားကို လျှို
လွယ်၏၊ငွေရတတ်သောသူသည်ဘုရားသခင်၏
၂၆ နိုင်ငံတော်သို့ဝင်ခဲသည်ဟုမိန့်တော်မူ၏။-ထိုသူ
တို့သည်သာ၍မိန်းမောတွေဝေခြင်းရှိ၍၊သို့ဖြစ်
လျှင်၊အဘယ်သူသည်ကယ်တင်တော်မူခြင်းသို့
ရောက် နိုင်မည်နည်းဟု အချင်းချင်း ပြောဆိုကြ
၂၇ ၏။- ယေရှုသည်လည်း၊သူတို့ကိုကြည့်ရှု၍၊ ဤ
အမှုကိုလူမတတ် နိုင်သော်လည်း၊ဘုရားသခင်
မတတ် နိုင်သည်မဟုတ်၊ ဘုရားသခင်သည်ခပ်
သိမ်းသော အမှုတို့ကို တတ် နိုင်တော်မူသည်ဟု
မိန့်တော်မူ၏။
၂၈ ထိုအခါပေတရုက၊ အကျွန်ုပ်တို့သည်ရှိသမျှ
ကိုစွန့်ပြစ်၍၊ ကိုယ်တော်နောက်သို့ လိုက်ကြပါ
၂၉ ပြီဟုလျှောက်လေသော်၊-ယေရှုက၊ငါအမှန်ဆို
သည်ကား၊အကြင်သူသည်ငါ့ကြောင့်၎င်း၊ဧဝံဂေ
လိတရားကြောင့်၎င်း အိမ်၊ လယ်၊ ညီအစ်ကို၊ နှမ
မ၊ မိဘ၊ သားမယားတည်းဟူသော တပါးပါး
၃၀ ကိုစွန့်၏၊- ထိုသူသည် အဆတရာသောအကျိုး
တည်းဟူသော ယခုကာလ၌ ညှဉ်းဆဲခြင်းနှင့်
တကွအိမ်၊ လယ်၊ ညီအစ်ကို၊ နှမ၊ အမိ၊ သား
သမီးတို့ကို၎င်း၊ နောင်ဘဝ၌ ထာဝရ အသက်ကို
၃၁ ၎င်ခံရလတံ့။- နောက်ကျ သော သူ အများ ထို
သည် အရင်ကျကြလိမ့်မည်။ အရင်ကျသောသူ
အများ တို့သည် နောက်ကျ ကြ လိမ့်မည်ဟု မိန့်
တော်မူ၏။
၃၂ ယေရုရှလင်မြို့သို့တက်သွားကြရာ၊ ထမ်းမှာ
ယေရှုသည်တပည့်တော်တို့ရှေ့၌ကြွတော်မူစဉ်၊
သူတို့သည်မိန်းမောတွေဝေ၍ ကြောက်ရွံ့သော
စိတ်နှင့်လိုက်ကြ၏။ ထိုအခါကိုယ်တော်သည်တ
ကျိပ်နှစ်ပါးတို့ကိုတဖန်ခေါ်၍၊ ငါတို့သည်ယေရု
၃၃ ရှလင်မြို့သို့ယခုသွားကြ၏။-လူသားသည်ယဇ်
ပုရောဟိတ်အကြီး၊ ကျမ်း ပြု ဆရာ တို့ ထံသို့
ရောက်လိမ့်မည်။ ထိုသူတို့သည်သေဖြစ်ကိုစီရင်
၍ တပါး အမျိုးသားတို့လက်သို့ အပ်နှံ ကြလိမ့်
၃၄ မည်။- သူတို့သည်လည်းလူသားအားပြက်ရယ်
ပြုခြင်း၊ရိုက်ပုတ်ခြင်း၊ တံတွေးနှင့်ထွေးခြင်း၊အ
သေသတ်ခြင်းကိုပြုကြလိမ့်မည်။သုံးရက်မြောက်
သောနေ့၌ထမြောက်လိမ့်မည်ဟူ၍၊ မိမိကိုယ်၌
ရောက်လတံ့သောအမှုအရာတို့ကိုတပည့်တော်
တို့အားမိန့်တော်မူ၏။
၃၅ ထိုအခါ ဇေဗေဒဲ၏ သား ယာကုပ်နှင့် ယော
ဟန် သည် အထံ တော်သို့ ချဉ်းကပ် ၍၊ အရှင်
ဘုရား၊အကျွန်ုပ်တို့တောင်းသောဆုကျေးဇူးကို
ပြုတော် မူစေချင်ပါသည် ဟု လျှောက် ထေ၏။-
၃၆ ကိုယ်တော်က၊ငါသည်သင်တို့ကိုအဘယ်သို့ပြု
၃၇ စေချင်သနည်းဟုမေးတော်မူသော်၊-ကိုယ်တော်

သည်ဘုန်းပွင့်တော်မူသောအခါ အကျွန်ုပ်တို့
သည် လက်ျာတော်ဘက်၌တယောက်၊ လက်ဝဲ
တော်ဘက်၌တယောက်၊ ထိုင်ရသောအခွင့်ကို
ပေးတော်မူပါဟု လျှောက်ကြ၏။- ယေရှုက
၃၈ လည်း၊ သင်တို့သည်အဘယ်သို့တောင်းပန်သည်
ကို သင်တို့ မသိကြ။ ငါသောက်သောခွက်ကို
သောက်ခြင်းငှါရှင်၊ ငါခံသောနှစ်ခြင်းကိုခံခြင်း
ငှါရှင်၊ သင်တို့သည် တတ်စွမ်းနိုင်သလော ဟု
၃၉ မေးတော်မူလျှင်၊- အကျွန်ုပ်တို့သည်တတ်စွမ်း
နိုင်ပါ၏ ဟု လျှောက်ကြသော်၊ ယေရှုက၊ ငါ
သောက်သော ခွက်ကို သင်တို့သည် သောက်ရ
ကြလိမ့်မည်။ ငါခံသောနှစ်ခြင်းကိုလည်းသင်တို့
၄၀ သည်ခံရကြလိမ့်မည်။-သို့သော်လည်း၊ငလက်ျာ
ဘက်၊ လက်ဝဲဘက် မှာ ထိုင်ရသော အခွင့်ကို
ကား၊ အကြင်သူတို့အဘို့အလို့ငှါ ပြင်ဆင်၏၊ ထို
သူတို့အားသာငါပေးပိုင်သည်ဟုမိန့်တော်မူ၏။
၄၁ အခြားသောတပည့်တော်တကျိပ်တို့သည်
ကြား၊သိလျှင်၊ ယာကုပ်နှင့် ယောဟန်တို့ကိုအ
၄၂ မျက်ထွက်ကြ၏။- ယေရှုသည်ထိုသူတို့ကို ခေါ်
တော်မူ၍၊ သင်တို့သိသည်အတိုင်းလောကီမင်း
တို့သည်အစိုးတရပြုတတ်ကြ၏။အကဲအမှူးတို့
၄၃ သည်အာဏာထားတတ်ကြ၏။-သင်တို့မူကား၊
ထိုသို့မပြုကြနှင့်။ သင်တို့တွင် အကဲအမှူး ပြုလို
၄၄ သောသူသည်သင်တို့အစေခံဖြစ်ရမည်။-သင်တို့
တွင်အဘွဲ့ရအမြတ်လုပ်ချင်သောသူသည်ထည်း
၄၅ အလုံးစုံတို့၏ စေခိုင်းရာ ကျွန် ဖြစ် ရမည်။- အ
ကြောင်းမူကား၊ လူသားသည် သူတပါးကိုစေ
စားခြင်းငှါ မလာ၊ သူတပါး အစေကို ခံခြင်းငှါ
ရှင်၊ မိမိအသက်ကိုစွန့်၍ လူများကို ရွေးခြင်းငှါ
ရှင်ကြွလာသတည်းဟုမိန့်တော်မူ၏။
၄၆ ယေရိခေါမြို့သို့ရောက်ကြလျှင်၊ တပည့်တော်
တို့မှစ၍ များစွာသော လူအပေါင်းတို့နှင့်တကွ၊
ထိုမြို့မှ ထွက်ကြွ တော်မူစည်တွင်၊ တိမဲ၏ သား
ဗာတိမဲ အမည်ရှိသောလူကန်းသည် လမ်းနား
၄၇ မှာထိုင်၍တောင်းစားလေ၏။-နာဇရက်မြို့သား
ယေရှု ရှိကြောင်းကို ကြားရလျှင်၊ ဒါဝိဒ်၏ သား
တော်ယေရှု၊ အကျွန်ုပ်ကိုကယ်မသနားတော်မူ
၄၈ ပါဟုဟစ်ကြော်လေ၏။-ထိုသူကိုတိတ်ဆိတ်စွာ
နေစေခြင်းငှါ လူ များ တို့သည် ငေါက်၍ ဆိုကြ
သော်လည်း၊ ဒါဝိဒ်၏ သားတော်၊ အကျွန်ုပ်ကို
ကယ်မသနားတော်မူပါဟုသာ၍ဟစ်ကြော်လေ
၄၉ သော်၊- ယေရှုသည်ရပ်တော်မူလျက်၊ထိုသူကို
ခေါ်ခဲ့ဟု အမိန့်တော်ရှိ၏။ သူတပါးတို့သည်လူ
ကန်းကိုခေါ်၍၊ မစိုးရိမ်နှင့်၊ ထလော့၊ သင့်ကို
၅၀ ခေါ်တော်မူသည်ဟုဆိုကြ၏။- ထိုသူသည်မိမိအ
ဝတ်ကိုချုံပြီးလျှင်၊ထ၍ယေရှုထံတော်သို့သွား
၅၁ ၏။-ယေရှုကလည်း၊ သင်၌အဘယ်သို့ပြုစေလို
၅၂ သနည်းဟု မေးတော်မူလျှင်၊- အရှင်ဘုရား၊ အ
ကျွန်ုပ်မျက်စိ မြင်စေခြင်းငှါ ပြုတော်မူပါဟု လူ
ကန်းလျှောက်လေသော်၊ ယေရှုက၊ သွားလော့၊
သင်၏ယုံကြည်ခြင်းသည် သင့်ကို ကယ်မပြီဟု
မိန့်တော်မူ၏။ ထိုခဏချင်းတွင် ထိုသူသည်မျက်
စိမြင်၍၊လမ်း၌နောက်တော်သို့လိုက်လေ၏။

၁၁

၁ ယေရုရှလင်မြို့ နှင့် အနီး၊ သံလွင်တောင်ခြေ
ရင်း၌ဗက်ဖာဂေရွာနှင့်ဗေသနိရွာသို့ရောက်ကြ
သောအခါ တပည့်တော်နှစ်ယောက်တို့ကို စေ
၂ လွှတ်တော်မူ၍၊-သင်တို့ရှေ့၌ရှိသောရွာသို့သွား
ကြ၊ထိုရွာသို့ရောက်လျှင်၊အဘယ်သူမျှမစီးဘူး
သောမြည်းကလေးချည်နှောင်လျက်ရှိသည်ကို သင်
တို့သည်ချက်ချင်းတွေ့လိမ့်မည်။ မြည်းကြိုးကိုဖြည်
၃ ၍ဆောင်ခဲ့ကြ။- သူတပါးက၊ အဘယ်ကြောင့်
ဤသို့ပြုသနည်းဟု သင်တို့အား ဆိုလျှင်၊ သခင်
အလိုရှိသည်ဟု ပြန်ပြောကြလော့၊ ထိုသို့ပြော
လျှင်၊ ထိုသူသည်ချက်ချင်း ပေးလိုက်မည်ဟုမှာ
၄ ထားတော်မူ၏။- တပည့်တော်တို့သည်သွား၍၊
လမ်း၌ တံခါးပြင်မှာ ချည်ထားသော မြည်းကလေး
ကိုတွေ့ပြီးလျှင်မြည်းကြိုးကိုဖြည်ကြ၏။- ထိုအရပ်
၌ရပ်နေသောသူအချို့တို့က၊ အဘယ်ကြောင့်မြည်း
၅ ကြိုးကိုဖြည်သနည်းဟုဆိုလျှင်၊-ယေရှုမှာထား
တော်မူသည်အတိုင်း တပည့်တော်တို့သည်ပြန်
၆ ပြောပြီးမှ၊ထိုသူတို့သည်အခွင့်ပေးကြ၏။- ယေ
ရှုထံတော်သို့ မြည်းကလေးကို ဆောင်ခဲ့၍ မိမိတို့အ
ဝတ်ကို မြည်းကျောပေါ်မှာတင်ကြပြီးလျှင်၊ ကိုယ်
၈ တော်သည်စီးတော်မူ၏။-လူများတို့သည်မိမိတို့
အဝတ်ကိုလမ်း၌ခင်းကြ၏။ အချို့တို့သည် သစ်
ကိုင်းသစ်ခက်များကိုခုတ်၍လမ်း၌ခင်းကြ၏။-
၉ ရှေ့နောက်လိုက်သွားသောသူတို့က၊ ဟောရှန္န
ဖြစ်စေသတည်း။ ထာဝရဘုရား၏ အခွင့်နှင့်
ကြွလာတော်မူသော သူသည် မင်္ဂလာရှိစေ သ
၁၀ တည်း။-ထာဝရဘုရား၏အခွင့်နှင့်ယခုတည်လျှ
သောငါတို့အဖ ဒါဝိဒ်၏နိုင်ငံတော်သည်မင်္ဂလာ
ရှိစေသတည်း။ ကောင်းကင်ဘဝက်ဝယ် ဟော
၁၁ ရှန္နဖြစ်စေသတည်းဟုကျွေးကြော်ကြ၏။- ယေ

ရှုသည် ယေရုရှလင်မြို့သို့ရင်၊ ဗိတ်မှန်တော်သို့
ရှင်ဝင်၍အရာရာတို့ကိုကြည့်ရှုတော်မူပြီးလျှင်၊
မိုးချုပ်သောကြောင့် တကျိပ်နှစ်ပါးသော
သူတို့နှင့်တကွဗေသနိရွာသို့ထွက်ကြွတော်မူ၏။
၁၂ နက်ဖန်နေ့၌ဗေသနိရွာမှ ပြန်ကြစဉ်တွင်ဆာ
၁၃ မွတ်တော်မူ၏။- အရွက်နှင့်ပြည့်စုံသောသင်္ဘော
သဖန်းပင်ကို အဝေးက မြင်လျှင်၊ သင်္ဘောသ
ဖန်းသီးဆွတ်သောအချိန်ကာလ မရောက်သေး
သောကြောင့်၊ ထိုအပင်၌ အသီးကိုတွေ့ကောင်း
တွေ့လိမ့်မည်ဟု ကြွသွား၍ ရောက် သောအခါ၊
၁၄ အရွက်ကိုသာတွေ့တော်မူသည်ရှိသော်၊-ယခုမှ
စ၍အစဉ်မပြတ်သင်၏အသီးကိုအဘယ်သူမျှ
မစားစေနှင့်ဟု မိန့်တော်မူ၏။ တပည့်တော်တို့
သည်လည်းကြားကြ၏။
၁၅ ယေရုရှလင်မြို့သို့ရောက်ကြသောအခါယေရှု
သည်ဗိတ်မှန်တော်သို့ဝင်တော်မူပြီးလျှင်၊ ဗိတ်
မှန်တော်၌ရောင်းဝယ်သောသူတို့ကိုနှင်ထုတ်၍
ငွေလဲခုံတို့ကိုရင်၊ ခိုးငှက်ရောင်းသောသူတို့၏
၁၆ ထိုင်ရာကိုရင် တွန်းလှည်းတော်မူ၍၊- ဗိတ်မှန်
တော်အထဲ၌အဆောက်အဦးကိုအဘယ်သူမျှမ
ဆောင်မရွက်ရမည်အကြောင်းမြစ်တားတော်မူ
၁၇ လျက်၊- ငါ့အိမ်ကို လူအမျိုးမျိုး ဆုတောင်းရာ
အိမ်ဟူ၍ခေါ်ဝေါ်ကြလတံ့ဟု၊ ကျမ်းစာ၌လာ
သည်မထုတ်သလော။ သို့သော်လည်း၊ သင်တို့
သည် ထိုအိမ်ကို ထားမြတွင်း ဖြစ်စေကြပြီ တ
၁၈ ကားဟူ၍ဆုံးမဩဝါဒပေးတော်မူ၏။- ကျမ်းပြု
ဆရာနှင့်ယဇ်ပုရောဟိတ်အကြီးတို့သည်ကြား
လျှင်၊ ကိုယ်တော်ကို သတ်ရသောအခွင့်ကို ရှာ
ကြံကြ၏။လူများအပေါင်းတို့သည်ဆုံးမဩဝါဒ
ပေးတော်မူခြင်းကို အံ့ဩ မိန်းမောသော
ကြောင့်၊ထိုသူတို့သည်ကိုယ်တော်ကိုကြောက်ရွံ့
၁၉ ကြ၏။- ညအချိန်ရောက်သောအခါ မြို့ပြင်သို့
ထွက်တော်မူ၏။
၂၀ နံနက်အချိန်တွင်လမ်း၌သွားကြစဉ်၊သင်္ဘော
သဖန်းပင်သည် အမြစ်မှစ၍ သွေ့ခြောက်လျက်
၂၁ ရှိသည်ကိုမြင်ကြ၏။-ပေတရုသည်သတိရလျှင်၊
အရှင်ဘုရား၊ ကြည့်တော်မူပါ။ ကျိန်တော်မူ
သောသင်္ဘောသဖန်းပင်သည် သွေ့ခြောက်ပါပြီ
၂၂ တကားဟုလျှောက်လေ၏။-ယေရှုကလည်း၊သင်
တို့သည်ဘုရားသခင်ကိုယုံကြည်ခြင်းရှိကြလော့။-
၂၃ ငါအမှန်ဆိုသည်ကား၊ အကြင်သူသည်ယုံမှား
သောစိတ်နှင့်ကင်း၍၊ မိမိဆိုသည်အတိုင်း
ဖြစ်မည်ဟုယုံကြည်လျက်၊ထိုတောင်ကိုနေရာမှ
ရွေ့လော့။ ပင်လယ်၌ကျလော့ဟုဆိုလျှင်၊ထိုသူ
၂၄ ဆိုသည်အတိုင်းဖြစ်လိမ့်မည်။- ထို့ကြောင့်ငါ
ဆိုသည်ကား၊ သင်တို့သည် ဆုကျေးဇူးကိုရ
မည်ဟု ယုံကြည်သောစိတ်နှင့် ဆုတောင်းသမျှ
၂၅ တို့ကိုရကြလိမ့်မည်။- သင်တို့သည် ဆုတောင်း
သောအခါသူတပါး၌အပြစ်တင်စွဲချက်ရှိလျှင်၊ သူ
အပြစ်ကိုလွှတ်ကြလော့။ လွှတ်လျှင်ကောင်းကင်
ဘုံ၌ ရှိတော်မူသော သင်တို့အဘသည် သင်တို့၏
၂၆ အပြစ်ကိုလွှတ်တော်မူမည်။-သင်တို့သည်သူ့အ
ပြစ်ကိုမလွှတ်လျှင်၊ ကောင်းကင်ဘုံ၌ ရှိတော်မူ
သောသင်တို့အဘသည်သင်တို့၏အပြစ်ကိုလွှတ်
တော်မမူဟုမိန့်တော်မူ၏။
၂၇ ယေရုရှလင်မြို့သို့ တဖန်ရောက်ကြပြီးမှ ဗိတ်
မှန်တော်တွင်စင်္ကြံသွားတော်မူစဉ်၊ ယဇ်ပုရော
ဟိတ်အကြီး၊ ကျမ်းပြုဆရာ၊ လူအကြီးအကဲတို့
၂၈ သည် အထံတော်သို့ချဉ်းကပ်၍၊- ကိုယ်တော်
သည် ဤအမှုများကို အဘယ်အခွင့်နှင့် ပြုသ
နည်း။ ဤသို့ပြုရသောအခွင့်ကို အဘယ်သူပေး
၂၉ သနည်းဟုမေးလျှောက်ကြသော်၊-ယေရှုက၊ငါ
သည် တစုံတခုကို မေးဦးမည်။ သင်တို့ဖြေကြ
လော့။ဖြေလျှင်ဤအမှုများကိုအဘယ်အခွင့်နှင့်
၃၀ ငါပြုသည်ကိုငါပြောမည်။-ယောဟန်၏နှစ်ခြင်း
တရားသည်ဘုရားကဖြစ်သလော၊ လူကဖြစ်သ
လော။ ဤအမေးကို ဖြေကြလော့ဟု မိန့်တော်မူ
၃၁ ၏။- ထိုသူတို့သည် အချင်းချင်း ဆင်ခြင်ကြ၍၊
ဘုရားက ဖြစ်သည်ဟု ငါတို့ဖြေလျှင်၊ သင်တို့
သည်ယောဟန်ကိုအဘယ်ကြောင့်မယုံသနည်း
၃၂ ဟုသူမေးလေဦးမည်။- လူကဖြစ်သည်ဟုငါတို့
ဖြေလျှင်၊ လူများကို ကြောက်ရ၏။ ယောဟန်
သည်ပရောဖက်အမှန်ဖြစ်သည်ကို လူအပေါင်း
တို့သည်အယူရှိကြ၏ဟု၊အချင်းချင်းဆင်ခြင်ပြီး
၃၃ မှ၊-အကျွန်ုပ်တို့မသိပါဟု၊ ယေရှုအားပြန်ပြော
ကြ၏။ ယေရှုကလည်း၊ ထိုအတူ၊ ဤအမှုများကို
အဘယ်အခွင့်နှင့်ငါပြုသည်ကိုငါမပြောဟု မိန့်
တော်မူ၏။

၁၂

၁ ထိုအခါဥပမာအားဖြင့် မိန့်တော်မူသည်ကား၊
လူတဦးသည်စပျစ်ဥယျာဉ်ကိုစိုက်ပျိုး၍၊ စောင့်
ရန်းကို လုပ်ပြီးမှ စပျစ်သီးနယ်ရာကျင်းကို တူး
လေ၏။ မိုဘိရာလင့်စင်ကိုလည်း ဆောက်လေ၏။
လုပ်ဆောင်သောသူတို့အားဥယျာဉ်ကိုငှါး၍၊အ

၂ ခြားသောပြည်သို့ သွားလေ၏။ ကာလ အချိန်
တန်လျှင်၊ လုပ်ဆောင်သော သူတို့ထံ၌ စပျစ်
သီးကိုခံစေခြင်းငှါသူတို့ရှိရာသို့ငယ်သားကိုစေ
၃ လွှတ်လေ၏။- ထိုသူတို့သည် ငယ်သားကို ဖမ်း
ဆီး၍ ရိုက်ပြီးမှ ထက်ချည်း လွှတ်လိုက်ကြ၏။-
၄ နောက်တဖန်အခြားသောငယ်သားကို သူတို့ရှိ
ရာသို့ စေလွှတ်ပြန်လျှင်၊ ဥယျာဉ်စောင့်တို့သည်
ခဲနှင့် ပစ်သဖြင့်၊ သူ၏ခေါင်းကို ဒဏ်ရာ အရှက်ခွဲ
၅ ပြီးမှလွှတ်လိုက်ကြ၏။- အခြားသော ငယ်သား
ကို စေလွှတ်ပြန်လျှင် သူကိုသတ်ကြ၏၊ အခြား
သော ငယ်သားများတို့တွင် အချို့တို့ကိုရိုက်ကြ
၆ ၏၊အချို့ တို့ကိုသတ်ကြ၏။- ထိုကြောင့်၊ဥယျာဉ်
ရှင်သည်မိမိနှစ်ချစ်သားတယောက်တည်းရှိသေး
သည်ဖြစ်၍၊ထိုသူတို့သည်သားကိုအားနာကြ
လိမ့်မည်ဟု ဆို၍၊ မိမိသားကို နောက်ဆုံး၌စေ
၇ လွှတ်လေ၏။- ဥယျာဉ်စောင့်တို့ကလည်း၊ ဤသူ
သည်အမွေခံဖြစ်၏၊ လာကြ၊သူကိုသတ်ကြကုန်
အံ့၊ ထိုသို့သူ၏အမွေဥစ္စာကိုငါတို့ရကြလိမ့်မည်
၈ ဟု အချင်းချင်းတိုင်ပင်၍၊-ဥယျာဉ်ရှင်၏သားကို
ဖမ်းယူပြီးမှသတ်၍၊ဥယျာဉ်ပြင်သို့ထုတ်ပစ်ကြ
၉ ၏။- ထိုသို့ဖြစ်လျှင်၊ဥယျာဉ်ရှင်သည်အဘယ်သို့ပြု
မည်နည်း။ သူသည်လာ၍ ဥယျာဉ်စောင့် တို့ကို
သုတ်သင် ပယ်ရှင်း ပြီးမှ ထိုဥယျာဉ်ကို အခြား
၁၀ သော်သူတို့အား ပေးလိမ့်မည်။- တိုက်ကိုတည်
ထွင်သောသူများ၊ပယ်ထားသောကျောက်သည်
နောက်တဖန်တိုက်ထောင့်အထွဋ်ဖျားသို့ရောက်
ဖြစ်၏၊ ထိုအမှုသည် ထာဝရ ဘုရား ပြု တော်မူ
၁၁ သောအမှုဖြစ်၏။-ငါတို့မျက်မှောက်၌လည်းအံ့
ဖွယ်ဖြစ်၏ဟူသောစကားကို၊ ကျမ်းစာ၌
သင်တို့သည် မဖတ်ဘူး သလောဟု မိန့်တော်မူ
၁၂ ၏။- ထိုသူတို့သည် မိမိတို့ကို ရည်စောင်း၍ ထိုဥ
ပမာစကားကို ဟော ပြော တော် မူသည် ကို သိ
သောကြောင့်၊ကိုယ်တော်ကိုဖမ်းဆီးခြင်းငှါရှာ
ကြံကြ၏၊ သို့သော်လည်း၊ စုဝေးသော သူတို့ကို
ကြောက်သောကြောင့် အထံတော်မှ ထွက်သွား
ကြ၏။

၁၃ တဖန် စကားတော်ကို ချောင်းမြောင်း၍၊ အ
ပြစ်ပြု ခွင့်ကို ရခြင်းငှါ ဖာရိရှဲတို့နှင့် ဟေရုဒ်တ
ပည့် အချို့တို့ကို အထံတော်သို့ စေလွှတ်ကြ၏။-
၁၄ ထိုသူတို့သည်ချဉ်းကပ်၍၊ အရှင်ဘုရား၊ကိုယ်
တော်သည် သစ္စာ ရှိပါ၏၊ အဘယ် သူကိုမျှ မ
ကြောက်၊ လူ မျက်နှာကို မ ထောက်ဘဲ၊ ဘုရား
သခင်၏ တရားလမ်းကို ထုတ် ဖော်၍ ပြတော်မူ
သည်ကို အကျွန်ုပ်တို့သိကြပါ၏၊ ကဲသာဘုရင်
အား အခွန် ဆက်ဖော်သလော၊ မဆက်အပ်သ
၁၅ လော၊- အကျွန်ုပ်တို့သည် ဆက်ရမည်လော၊ မ
ဆက်ရမည်လောဟုမေးလျှောက်ကြ၏၊ ကိုယ်
တော်သည် ထိုသူတို့၏လျှို့ဝှက်ခြင်းကို သိတော်
မူလျှင်၊သင်တို့သည်ငါ့ကိုအဘယ်ကြောင့်စုံစမ်း
နှောင့်ရှက် ကြ သနည်း။ ဒေနာရိ တပြားကို ငါ
၁၆ ကြည့်ဘို့ ယူခဲ့ကြဟုမိန့်တော်မူ၍၊- သူတို့သည်
ယူခဲ့ကြ၏၊ ဤပုံ၊ဤလိပ်စာကား၊အဘယ်သူ၏ပုံ၊
အဘယ် သူ၏ လိပ်စာ ဖြစ်သနည်း၊ ဟု မေးတော်
မူလျှင်၊ ကဲသာဘုရင်၏ပုံလိပ်စာဖြစ်ပါသည် ဟု
၁၇ လျှောက် ကြ သော်၊- ယေရှု ကလည်း၊ ကဲသာ
ဘုရင်၏ဥစ္စာကိုကဲသာဘုရင်အား ဆက်ပေးကြ
လော့၊ဘုရားသခင်၏ဥစ္စာကိုကား၊ဘုရားသခင်
အားဆက်ပေးကြလော့ဟု မိန့်တော်မူသည်ကို
သူတို့သည်အံ့ဩခြင်းရှိကြ၏။

၁၈ ထမြောက် ရှင်ပြန်ခြင်းမရှိဟူ၍ အယူရှိသော
ဇဒ္ဒုကဲတို့သည်လည်း၊ အထံတော်သို့ချဉ်းကပ်
၁၉ ၍၊- အရှင်ဘုရား၊မောရှေသည်ကား၊ သားမရှိ
ဘဲသေသွား၍ မယားကျန်ရစ်လျှင်၊ သူ့ညီသည်
ထိုမိန်းမကိုသိမ်းယူ၍၊ အစ်ကိုအမျိုးမပြတ် ဆက်
နွှယ်စေဟု၊ အကျွန်ုပ်တို့အား မောရှေ မိန့်ရေး
၂၀ ထားပါပြီ။-ညီအစ်ကိုခုနစ်ယောက်ရှိပါ၏၊အစ်
ကို အကြီးသည်မိန်းမနှင့် စုံဖက်၍သားမရှိဘဲသေ
၂၁ လျှင်၊- သူ၏မယားကို သူ့ညီအကြီး သိမ်းယူ၍
၂၂ သားမရှိဘဲ သေပြန်လေ၏။- ထိုအတူ၊ တတိယ
သူမှစ၍ တယောက် နောက် တယောက်၊ ခုနစ်
ယောက်သောညီအစ်ကိုတို့သည်ထိုမိန်းမကိုသိမ်း
ယူ၍သားကို မကျန်ရစ်စေကြ၊ နောက်ဆုံး၌မိန်းမ
၂၃ သည်လည်းသေလေ၏။- သို့ဖြစ်၍၊ ထမြောက်
ရာကာလ၌သူတို့သည်ထမြောက်ကြသောအခါ
ထို မိန်းမ သည် အ ဘယ် သူ ၏ မယား ဖြစ်ပါ မည်
နည်း။ ထိုသူခုနစ်ယောက်တို့သည် ထိုမိန်းမနှင့် စုံ
၂၄ ဖက်ခြင်းကိုပြုကြပြီဟုမေးလျှောက်ကြ၏။-ယေ
ရှုက လည်း။ သင် တို့ သည် ကျမ်းစာ ကို နားမ
လည်၊ ဘုရားသခင်၏တန်ခိုးတော်ကို မသိသော
၂၅ ကြောင့်မှားသောအယူကိုယူကြ၏။- သေခြင်းမှ
ထ မြောက် ကြသော အခါ စုံဖက် ခြင်းကို မပြု၊
ထိမ်းမြား လက်ထပ်ခြင်းကိုမပြု၊ ကောင်းကင်တ
၂၆ မန်ကဲ့သို့ဖြစ်ကြ၏။- ထို့မှတပါး၊ သေလွန်သော
သူတို့သည်ထမြောက်ခြင်း၊အရာမှာ၊ဘုရားသခင်

ကား၊ငါသည် အာဗြဟံ၏ဘုရား၊ ဣဇာက်၏ဘုရား၊
ယာကုပ်၏ ဘုရားဖြစ်သည်ဟု မောရှေအား မိန့်
တော်မူကြောင်းကို မောရှေ၏ ကျမ်း၊ မြိုင်ဆိုင်ရာ၌
၂၇ သင်တို့သည် မဖတ်ဘူးသလော။- ဘုရားသခင်
သည် သေနေသော သူတို့၏ ဘုရားမဟုတ်၊ အ
သက်ရှင်သောသူတို့၏ ဘုရားဖြစ်တော်မူ၏၊ ထို
ကြောင့်၊သင်တို့သည်အလွန်မှားကြသည်ဟုမိန့်
တော်မူ၏။
၂၈ ထိုသို့ဆွေးနွေးငြင်းခုံကြသည်ကို ကျမ်းပြုဆ
ရာတယောက်သည် ကြား၍၊ ကိုယ်တော်သည်
လျှောက်ပတ်စွာ ပြန်ပြော တော် မူသည်ကို သိ
မြင်လျှင်၊ အထံတော်သို့ချဉ်းကပ်၍၊ ပညတ်တ
ကာတို့တွင်အဘယ်မည်သောပညတ်သည်သာ
၂၉ ၍မြတ်သနည်းဟုမေးလျှောက်သော်၊-ယေရှုက၊
ပညတ်တကာတို့တွင် အမြတ်ဆုံးသော ပညတ်
ဟူမူကား၊ အိုဣသရေလ အမျိုး နားထောင်
လော့၊ငါတို့၏ဘုရားသခင်၊ ထာဝရဘုရားသည်
တဆူတည်းသော ထာဝရဘုရား ဖြစ်တော်မူ၏၊
ထာဝရ ဘုရားသည် တပါး တည်း ဖြစ်တော်မူ
၃၀ ၏။- သင်၏ဘုရားသခင် ထာဝရဘုရားကို စိတ်
နှလုံးအကြွင်းမဲ့၊ဉာဏ်ရှိသမျှ၊ အစွမ်းသတ္တိ
ရှိသမျှနှင့်ချစ်လော့၊ဤပညတ်သည်ပဌမပညတ်
၃၁ ဖြစ်၏။- ထိုမှတပါး၊ ကိုယ်နှင့်စပ်ဆိုင်သောသူ
ကို ကိုယ်နှင့်အမျှ ချစ်လော့ ဟူသော ဒုတိယ
ပညတ်သည်ပဌမပညတ်နှင့် သဘောတူ၏၊ ဤ
ပညတ်တို့ထက် သာ၍ ကြီး မြတ် သော ပညတ်
၃၂ မရှိဟု ပြန်၍ မိန့်တော်မူ၏။- ကျမ်းပြုဆရာက
သည်။အရှင်ဘုရား၊အကယ်စင်စစ်ကိုယ်တော်
သည် လျှောက်ပတ်စွာမိန့်တော်မူပြီ၊ ဘုရားသ
၃၃ ခင်တဆူတည်းရှိတော်မူ၏။- ထိုဘုရားသခင်မှ
တပါး အခြားသောဘုရားသခင်မရှိ၊ ထိုဘုရား
သခင်ကိုစိတ်နှလုံးအကြွင်းမဲ့၊ ဉာဏ်ရှိသမျှ၊
အစွမ်း၊ သတ္တိရှိသမျှနှင့် ချစ်ခြင်း၊ ကိုယ်နှင့် စပ်
ဆိုင်သောသူကိုလည်း၊ကိုယ်နှင့်အမျှချစ်ခြင်းအ
ကျင့်သည်၊မီးရှို့သောယဇ်ကောင်မှစ၍ယဇ်အ
မျိုးမျိုးတို့ကို ပူဇော်ခြင်းအကျင့်ထက် သာ၍
၃၄ မြတ်ပါသည်ဟုလျှောက်လေ၏။-ထိုသို့ပညာသ
တိနှင့် ပြန်လျှောက်သည်ကိုယေရှုသည် သိမြင်
လျှင်၊ သင်သည်ဘုရားသခင်၏ နိုင်ငံတော်နှင့် မ
ဝေးလှဟုမိန့်တော်မူ၏။နောက်တခါအဘယ်သူမျှ
မမေးမလျှောက်ဝံ့ကြ။
၃၅ ထိုအခါ ယေရှုသည် ဗိမာန်တော်၌ ဆုံးမဩ
ဝါဒပေးတော်မူစဉ်တွင်၊ခရစ်တော်သည်ဒါဝိဒ်
၏သားဖြစ်သည်ဟု၊ ကျမ်းပြုဆရာတို့သည် အ
၃၆ ဘယ်ကြောင့်ဆိုကြသနည်း။- ဒါဝိဒ်၏စကားမှာ၊
ထာဝရဘုရားက၊ သင်၏ရန်သူတို့ကို သင်၏ခြေ
တင် ရာ ငါ မချ မထားမှီ တိုင် အောင် ငါ လက်ျာ
လက်၌ ထိုင်နေလော့ဟု၊ ငါ၏ သခင် အား မိန့်
တော်မူသည်ဟု၊ သန့်ရှင်းသော ဝိညာဉ်တော်
၃၇ အားဖြင့်ဒါဝိဒ်ဆိုသတည်း။- ထိုသို့ဒါဝိဒ်သည်
ခရစ်တော်ကိုသခင်ဟူ၍ ခေါ်လျှင်၊ အဘယ်သို့
သူ၏ သားဖြစ်သနည်းဟုမေးတော်မူ၏၊ လူများ
အပေါင်းတို့သည်အားရဝမ်းမြောက်သောစိတ်
နှင့်စကားတော်ကိုနားထောင်ကြ၏။
၃၈ ထိုသို့ဆုံးမဩဝါဒပေးစဉ်တွင် တခန်းမိန့်တော်
မူ သည် ကား၊ ကျမ်း ပြု ဆရာ တို့ ကို ရှောင် ကြ
လော့၊သူတို့သည်ရှည်သောအင်္ကျီကိုဝတ်လျက်
သည်ခြင်း၊ငါ့ါအလိုရှိကြ၏၊ဈေး၌ရိုသေစွာနှုတ်
၃၉ ဆက် ခြင်းကိုင၎်း၊- ဇရပ်သထင်၊ တရား ဇရပ်တို့၌
မြင့်မြတ်သော နေရာ ထိုင်ရာ ကိုင၎် နှစ်သက်ကြ
၄၀ ၏။- သူတို့သည်မုဆိုးမအိမ်ကို လုယူသိမ်းစား
၍၊ အပြစ်မပေါ်စေခြင်းငှါ ရှည်စွာသောပဌနာ
စကားကိုရွတ်တတ်ကြ၏၊သူတို့သည်သာ၍ကြီး
စွာသောဒဏ်ကိုခံရကြမည်ဟုမိန့်တော်မူ၏။
၄၁ ထိုနောက်၊ ယေရှုသည် အလှူခံတိုက် ရှေ့မှာ
ထိုင်တော်မူစဉ်တွင်၊ လူများတို့သည် ကြေးငွေ
ကိုအလှူခံတိုက်ထဲသို့ သွင်းချသည်ကို ကြည့်ရှု
တော်မူ၏၊ ငွေရတတ်သော သူ အများ တို့သည်
၄၂ များစွာ သွင်းချကြ၏။- ဆင်းရဲသော မုဆိုးမတ
ယောက် သည် လာ၍ တပဲ ထောက် ထန် သော
၄၃ ကြေးနီဝဂ်ါ၊ နှစ်ပြားကိုသွင်းချ၏။- ကိုယ်တော်
သည် တပည့် တော်တို့ကို ခေါ်၍၊ ငါအမှန်ဆို
သည်ကား၊ အလှူခံတိုက်ထဲသို့သွင်းချသောသူ
အပေါင်းတို့ထက် ထိုဆင်းရဲသော မုဆိုးမသည်
၄၄ သာ၍သွင်းချပြီ၊-အကြောင်းမူကား၊ထိုသူအ
ပေါင်းတို့သည် မိမိတို့ကြွယ်ဝသောစည်းစိမ်ထဲ
က နှုတ်၍ သွင်းချကြ၏၊ ထိုမိန်းမူကား၊ အလွန်
ဆင်းရဲလျက်ပင်၊ မိမိအသက်မွေးစရာ ဥစ္စာရှိသ
မျှကိုသွင်းချလေပြီဟုမိန့်တော်မူ၏။

၁၃

၁ ကိုယ်တော်သည် ဗိမာန်တော်မှ ထွက် ကြွ
တော်မူသော်၊တပည့်တော်တယောက်ကအရှင်
ဘုရား၊ကြည့်ရှုတော်မူပါ၊ ကျောက်ကြီးတ
ကား၊ ကျောက်ထိုက်ဆောင်ကြီးတကားဟုလျှောက်

၂ လျှင်၊-ယေရှုက၊ဤကြီး၊စွာသောတိုက်ဆောင်တို့
ကိုဘင်သည်ယခုမြင်ရ၏၊မဖြိုမချသဲကျောက်တ
ခုပေါ်မှာတခုမျှမတည်မနေရဟုမိန့်တော်မူ၏၊-
၃ ထိုနောက်၊ သံလွင်တောင်ပေါ်မှာ ဗိမာန်တော်
ရှေ့ရှုထိုင်တော်မူစဉ်၊ ပေတရု၊ယာကုပ်၊ယော
၄ ဟန်၊အန္ဒြေတို့က၊-ထိုအမှုအရာတို့သည်အဘယ်
ကာလ၌ဖြစ်မည်ကိုၚင်၊ ထိုအမှုအရာရှိသမျှတို့
သည်ပြည့်စုံမည်နီးသောအခါ အဘယ်ပုပ္ပနိမိတ်
ပေါ်ထွန်းမည်ကိုၚင် အမိန့်ရှိတော်မူပါဟု၊ အ
၅ ခြားသုံမပါဘဲလျှောက်ကြ၏၊-ယေရှုကလည်း၊
သင်တို့ကို အဘယ်သူမျှ မလှည့်ဖြားစေခြင်းငှါ
၆ သတိ ပြုကြလော့၊- အများ၊ သော သူတို့က၊ ငါ
သည် ဤမည်သောသူ ဖြစ်၏ဟု ဆိုလျက်၊ ငါ၏
အရောင်ကို ဆောင် ၍ ပေါ်လာ သဖြင့်၊ လူများ
၇ တို့ကိုလှည့်ဖြား၊ကြလိမ့်မည်၊- သင်တို့သည်စစ်
တိုက်ကြောင်း၊ကိုၚင်၊ စစ်တိုက်ထုံသောသိတင်း
စကား၊ကိုၚင်ကြား၊ရသောအခါမိုး၊ရိမ်တုန်လှုပ်
ခြင်း၊မရှိကြနှင့်၊ထိုသို့ဖြစ်ရမည်၊ သို့သော်ထဦး
အဆုံးသည်မဖြစ်သေး၊
၈ လူတမျိုး၊နှင့် တမျိုး၊ တနိုင်ငံ နှင့် တနိုင်ငံ ရန်
ထက် ပြုကြ လိမ့်မည်၊ အရပ် ရပ်တို့၌ မြေ ကြီး
လှုပ်ခြင်း၊ ဖြစ်လိမ့် မည်၊ အစာ ခေါင်း၊ ပါ၊ခြင်း၊
နှင့်မငြိမ်မသက်ခြင်း၊တို့သည်လည်း၊ ဖြစ်ကြလိမ့်
မည်၊ ထိုအမှုအရာတို့သည် ဝေဒနာ ဆင်း၊ရဲခြင်း၏
၉ အစအဦး၊ဖြစ်သတည်း၊- သင်တို့သည်ကိုယ်ကို
ကိုယ်သတိပြုကြလော့၊အကြောင်း၊မူကား၊သင်
တို့ကို လွှတ်ရုံး၊သို့အပ်နှံ ကြလိမ့်မည်၊ တရား၊
ရပ်တို့၌ ရိုက်ကြလိမ့်မည်၊ ထိုသူတို့အား၊သက်
သေဖြစ်မည်အကြောင်း၊၊ သင်တို့သည် ဝန်မင်း၊၊
ရှင်ဘုရင်ထံသို့ ငါ့ကြောင့် ရောက်ကြလိမ့်မည်၊-
၁၀ ဧဝံဂေလိတရား၊ကို ရှေ့ဦး၊စွာ လူမျိုး၊အပေါင်း၊တို့
အား၊ဟောရလိမ့်မည်၊သင်တို့ကိုအပ်နှံခြင်း၊ငှါ၊
ခေါ်ဆောင် ကြသောအခါ အဘယ်သို့ ပြောဆိုရ
၁၁ မည်ကို မစိုးရိမ် ကြနှင့်၊- ရှေ့မထွက မဆင်ခြင်
ကြနှင့်၊ ထိုခဏချင်း၊တွင်သင်တို့ ရသော စကား၊
ကိုသာ ပြောကြလော့၊ အကြောင်းမူကား၊ သင်
တို့အထိုအလျှောက်ပြောကြသည်မဟုတ်၊သန့်
ရှင်း၊သော ဝိညာဉ် တော်သည် ပြောတော်မူ၏၊-
၁၂ ထို ကာ လ၌ ညီ အစ်ကို ချင်း၊ တ ယောက်ကို တ
ယောက်သေစေခြင်း၊ငှါအပ်လိမ့်မည်၊ အဘသည်
သည်သား၊ကိုအပ်လိမ့်မည်၊သား၊သမီး၊တို့သည်
လည်း၊ မိဘကို ရန်ထက်ပြု၍ သေ စေ ကြ လိမ့်

၁၃ မည်၊- လူ အပေါင်း၊တို့သည်လည်း၊ ငါ၏ နာမ
ကြောင့် သင်တို့ကို ရွံ၊ကြလိမ့်မည်၊ အဆြင်သူ
သည် အဆုံး၊တိုင်အောင် တည် ကြည်၏၊ ထို သူ
သည်ကယ်တင်ခြင်း၊သို့ရောက်လိမ့်မည်၊
၁၄ ပရောဖက်ဒံယေလဟောသည်အတိုင်း၊၊ဖျက်
ဆီး၊ တတ်သော ရွံ့ရှာ ဖွယ်အရာသည် မနေသင့်
သောအရပ်၌ ရိုက်နေသည်ကိုသင်တို့မြင်ရလျှင်၊
ကျမ်း၊စာကိုကြည့်သောသူသည် နား၊လည်ပါစေ၊
ထိုသို့မြင်ရလျှင်၊ ယုဒပြည်၌ရှိသောသူတို့သည်
၁၅ တောင် ပေါ်သို့ ပြေး၊ ကြစေ၊- အိမ် မိုး၊ ပေါ်မှာ ရှိ
သောသူသည်အိမ်ထဲသို့မဆင်း၊စေနှင့်၊အိမ်ထဲ
၁၆ ကတာနိုတစုကိုယူခြင်း၊ငှါမဝင်စေနှင့်၊-လယ်၌ရှိ
သောသူသည်၊ မိမိအဝတ်ကိုယူခြင်း၊ငှါ နောက်
၁၇ သို့မပြန်စေနှင့်၊- ထိုနေ့ရက်၌ ကိုယ်ဝန်ဆောင်
သောမိန်းမနှင့်၊ နို့ရှိသူငယ်ရှိသောမိန်းမတို့သည်အ
၁၈ လွန်ခက်ကြလိမ့်မည်၊- သင်တို့ ပြေး၊ရသော အ
ချိန်သည်ဆောင်း၊ကာလ၌မကျရမည့်အကြောင်း၊
၁၉ ဆုတောင်း၊ကြလော့၊-အကြောင်း၊မူကား၊ဘုရား၊
သခင်ဖန်ဆင်း၊တော်မူသော ကမ္ဘာဦး၊မှစ၍ ယခု
တိုင် အောင် မဖြစ် စဖူး၊၊ နောက်၌ ထည်း၊ မဖြစ်
ထတ့် သော ဒုက္ခသည် ထိုနေ့ရက် ကာလ၌ ဖြစ်
၂၀ လိမ့်မည်၊- ထိုကာလကိုဘုရား၊သခင်သည်တာ
ရှည်စေလျှင်၊ အဘယ်သူမျှမလွတ်နိုင်ရာ၊ ရွေး၊
ချယ်တော်မူသောသူတို့အဖို့အလို့ငှါ ထိုကာလ
ကိုတိုစေတော်မူမည်၊
၂၁ ထိုအခါသူတပါး၊က၊ ဤအရပ်၌ ခရစ်တော်ရှိ
သည်၊ ထိုအရပ်၌ ရှိသည်ဟု ဆိုသော်လည်း၊၊ မ
၂၂ ယုံကြနှင့်၊- အကြောင်း၊မူကား၊ခရစ်တော်၏ အ
ရောင်ကို ဆောင်သောသူနှင့် မိစ္ဆာ ပရောဖက်တို့
သည် ပေါ်လာ၍၊ ရွေး၊ချယ်သော သူတို့ ကိုပင်
လှည့်ဖြား၊နိုင်လျှင်၊ လှည့်ဖြား၊ သောတ်ဆောင်
နိမိတ်လက္ခဏာ၊ ထူးဆန်းသောအမှုတို့ကို ပြုကြ
၂၃ လိမ့်မည်၊-သင်တို့သည်သတိပြုကြလော့၊ထိုအ
ကြောင်း၊အရာရှိသမျှကိုငါပြောနှင့်ပြီ၊
၂၄ ထိုကာလ၏ဒုက္ခဆင်း၊ရဲခြင်း၊နောက်မှ နေသည်
၂၅ မိုက်လိမ့်မည်၊လသည်အရောင်မပေး၊-ကောင်း၊
ကင် ကြယ် တို့ သည် ကျ ကြ လိမ့် မည်၊ ကောင်း၊
၂၆ ကင်တန်ခိုး၊တို့သည်တုန်လှုပ်ကြလိမ့်မည်၊- ထို
အခါ လူသား၊သည် ကြီး၊ စွာသော ဘုန်း၊တန်ခိုး၊
အာနုဘော်ကို ဆောင်လျက်၊ မိုဃ်း၊တိမ်ကို စီး၊
၍ ကြွလာတော်မူသည်ကို မြင်ရကြလိမ့်မည်၊-
၂၇ ထိုအခါလူသား၊သည်မိမိတမန်တို့ကိုစေလွှတ်သ

ဖြင့် မိမိရွေးချယ်သောသူတို့ကို အရပ်လေးမျက်
နှာ၊ ကောင်းကင် အောက် ထက် ဝန်းကျင် ထိုမှ
ခေါ်၍စုရုံးစေတော်မူလတံ့။
၂၈ သင်္ဘောသဖန်းပင်ကိုအစွဲပြု၍ပုံသက်သေတ
ရားကိုမှတ်ကြလော့။ သင်္ဘောသဖန်းပင်သည်အ
ခက် အထက်နု၍ အရွက်ပေါက်သောအခါ၊ နွေ
၂၉ ကာလနီးသည်ကိုသင်တို့သိကြ၏။- ထိုနည်းတူ၊
ထိုအကြောင်းအရာများဖြစ်သည်ကိုမြင်ရလျှင်၊
လူသားသည် တံခါး ဝ တိုင်အောင် အနီး သို့
၃၀ ရောက်တော်မူသည်ကိုသိမှတ်ကြလော့။- ငါအ
မှန်ဆိုသည်ကား၊ ယခုဖြစ်သော လူများမကုန်
မှီ၊ ထိုအကြောင်းအရာအလုံးစုံတို့သည် ဖြစ်ကြ
၃၁ လိမ့်မည်။- ကောင်းကင်နှင့်မြေကြီးမတည်သော်
လည်း ငါ့စကားတည်လိမ့်မည်။
၃၂ ထိုအချိန်နာရီကိုကား၊ ခမည်းတော်မှတပါး
အဘယ်သူမျှမသိ၊ ကောင်းကင်တမန်များမသိ၊
၃၃ သားတော်လည်းမသိ။- ထိုအချိန်ကာလသည်အ
ဘယ်အခါ၌ ရောက်မည်ကို သင်တို့ မသိသော
ကြောင့်၊ သတိပြု၍ ဆုတောင်းလျက်စောင့်နေကြ
၃၄ လော့။- ဥပမာကား၊ လူတဦးသည်အခြားသော
ပြည်သို့သွားမည်အကြံရှိသည်နှင့် မိမိအိမ်ကို
ငယ်သားတို့ ထက်သို့အပ်၍၊ သူတို့ဆောင်ရွက်
စရာအမှုကို အသီးအသီး ခွဲခန့်စီရင်၍၊ တံခါးမှူး
ကိုစောင့်နေစေဟု မှာထားပြီးမှ သွားသည် ဖြစ်
၃၅ ၏။- အိမ်ရှင်သည် ညဦးတချိန်၊ သန်းခေါင်အ
ချိန်၊ ကြက်ဦးတွန်ချိန်၊ နံနက် အချိန်တို့တွင် အ
ဘယ် အချိန်၌ လာမည်ကို သင်တို့ မသိသော
၃၆ ကြောင့်စောင့်နေကြလော့။- သို့မဟုတ်၊ အမှတ်
တမဲ့သာ၍ သင်တို့ အိပ်ပျော်သည်ကို တွေ့လိမ့်
၃၇ မည်။- စောင့်နေကြလော့ဟု၊ သင်တို့အားငါဆို
သည်အတိုင်း၊ ခပ်သိမ်းသော သူတို့အား ငါဆို
သည်ဟုမိန့်တော်မူ၏။

## ၁၄

၁ ထိုနောက်နှစ်ရက်လွန်လျှင်၊ ပသခါအစာမပွဲ
ရှိ၏၊ ယဇ်ပရောဟိတ် အကြီးတို့နှင့် ကျမ်းပြု
ဆရာတို့သည် ကိုယ်တော်ကို အဘယ်သို့ ပရိ
ယာယ်အားဖြင့် ဖမ်းဆီး၍ သတ်ရအံ့နည်းဟု
၂ ရှာကြံကြ၏။- သို့သော်လည်း၊ လူများတို့သည်
ရုန်းရင်းခတ်ဖြစ်မည်ကိုစိုးရိမ်၍၊ ပွဲနေ့တွင်မပြု
နှင့်ဦးဟုပြောဆိုကြ၏။
၃ ဗေသနိရွာတွင် ရှိမုန် အမည်ရှိ သော လူနူ၏
အိမ်၌ကိုယ်တော်မှီတော်မူသည်ဖြစ်၍၊ မိန်းမတ
ယောက်သည်အဘိုးများသောနာရဒဆီ
မွှေးစစ်နှင့် ပြည့်သောကျောက်ဖြူဗူးတလုံးကို
ယူခဲ့၍၊ ကိုယ်တော်သည်စားပွဲနားမှာလျောင်း
တော်မူစဉ်၊ ကျောက်ဖြူဗူးကို ခွဲပြီးမှ ခေါင်း
၄ တော်ပေါ်၌သွန်းလောင်းလေ၏။- အချို့တို့သည်
ဒေါသစိတ်ရှိသည်ဖြစ်၍၊ ထိုဆီမွှေးကိုအဘယ်
၅ ကြောင့် အကျိုးမဲ့ဆုံးစေသနည်း။- ဒေနာရိအ
ပြားသုံးရာမကသောအဘိုးနှင့်ရောင်း၍၊ ဆင်း
ရဲသောသူတို့အားပေးစရာ ကောင်းသည်ဟုဆို
၆ ၍၊ ထိုမိန်းမကိုအပြစ်တင်ကြ၏။- ယေရှုကလည်း
ထိုမိန်းမကိုရှိစေတော့၊ အဘယ်ကြောင့်နှောင့်ရှက်
ကြသနည်း။ သူသည် ငါ၌ကောင်းသောအမှုကို
၇ ပြုပြီ။- ဆင်းရဲသောသူတို့သည်သင်တို့၌အစဉ်
ရှိကြ၏၊ သင်တို့အလိုရှိသည်အတိုင်းသူတို့အား
ကျေးဇူးပြုနိုင်၏၊ ငါမူကား၊ သင်တို့၌အစဉ်ရှိ
၈ သည်မဟုတ်။- ဤမိန်းမသည်တတ်နိုင်သမျှပြုပြီ။
ငါ့အလောင်းကို သင်းဂြိုဟ်မည်ဟု ရှေ့ဆင်ခြင်း
၉ ငှါ၊ ငါ့ကိုယ်ကိုဆီမွှေးနှင့်လူးနှင့်သတည်း။- ငါ
အမှန်ဆိုသည်ကား၊ ဧဝံဂေလိတရားကို မြေအ
ပြင်လုံးတွင်ဟောသောအရပ်ရပ်တို့၌ ဤမိန်းမကို
အောက်မေ့စရာတို့ သူပြုသော ဤအမှုကို ကြား
ပြောရကြလတံ့ဟုမိန့်တော်မူ၏။
၁၀ ထိုအခါ တပည့်တော် တကျိပ် နှစ်ပါး အဝင်
ဖြစ်သော ယုဒရှကာရုတ်သည် ကိုယ်တော် ကို
အပ်ခြင်းငှါ ယဇ်ပရောဟိတ် အကြီး ထံ သို့
၁၁ သွား၏။- ထိုသူတို့သည် ကြားလျှင် ဝမ်း
မြောက်သောစိတ်ရှိ၍၊ ငွေပေးမည်ဟု ဝန်ခံကြ
၏၊ ထိုနောက်၊ အထင်သင့်သောအချိန်ကာလ၌
ကိုယ်တော်ကို အဘယ်သို့ အပ်ရမည်နည်းဟု
ရှာကြံလျက်နေ၏။
၁၂ ပသခါသိုးသငယ်ကိုသတ်သောနေ့တည်းဟူ
သော အစာမပွဲပဌမနေ့၌ တပည့်တော်တို့သည်
အထံတော်သို့ ချဉ်းကပ်၍၊ ကိုယ်တော်သည်
ပသခါပွဲကို စားတော်မူဘို့ရာ အဘယ် အရပ်၌
အကျွန်ုပ်တို့သည်သွား၍ပြင်ဆင်စေခြင်းငှါ အ
လိုရှိတော်မူသနည်းဟု မေးလျှောက်ကြသော်၊-
၁၃ ကိုယ် တော်သည် တပည့် တော် နှစ်ယောက်တို
ကိုစေလွှတ်၍၊ သင်တို့သည် မြို့ထဲသို့ သွားကြ
ရေအိုး ဆောင် သော သူကိုတွေ့လိမ့်မည်။ ထိုသူ
၁၄ နောက်သို့လိုက်၍၊- သူဝင်သောအိမ်သို့ဝင်ပြီး
မှ၊ ငါသည်တပည့်တို့နှင့်တကွပသခါပွဲကိုစား
ရသောဧည့်သည်အခန်းကား၊ အဘယ်မှာရှိသ

နည်း၊ တရားကားစားသည့်ဧည့်ခန်းကိုပြကြ
၁၅ လော့၊-ထိုသူသည် တသင့်ပြင်ဆင်လျက်ရှိသော
အထက်အခန်းကြီးကိုပြလိမ့်မည်၊ ထိုအခန်း၌
၁၆ ငါတို့အဖို့ပြင်ဆင်ကြလော့ဟုမိန့်တော်မူ၏၊- တ
ပည့်တော်တို့သည် သွား၍ မြို့ထဲသို့ဝင်လျှင်၊
စကားတော်အတိုင်းတွေ့၍ ပသခါပွဲကိုပြင်ဆင်
ကြ၏၊
၁၇ ညဦးယံအချိန်ရောက်မှ တပည့်တော်တကျိပ်
၁၈ နှစ်ပါးတို့နှင့် အတူ ကြွလာတော်မူ၏- စားပွဲ၌
လျောင်း၍စားနေကြစဉ်တွင်၊ ယေရှုက၊ငါအ
မှန်ဆိုသည်ကား၊ သင်တို့အဝင်ဖြစ်၍ ငါနှင့်အ
တူစားသောသူ တစုံတယောက်သည် ငါ့ကို အပ်
၁၉ နှံလိမ့်မည်ဟုမိန့်တော်မူလျှင်၊-တပည့်တော်တို့
သည် ဝမ်းနည်း၍၊ အကျွန်ုပ်လော၊ အကျွန်ုပ်
လောဟု တယောက်နောက် တယောက် အသီး
၂၀ အသီး မေးလျှောက်ကြ၏၊- ကိုယ်တော်က
လည်း၊ တကျိပ်နှစ်ပါးအဝင်ဖြစ်၍ ငါနှင့်အတူ
ဗုကန်တွင် နှိုက်သော သူသည် ငါ့ကို အပ်နှံလိမ့်
၂၁ မည်၊-ကျမ်းစာလာသည်အတိုင်းလူသားသည်
သွားရမည်၊ သို့သော်လည်း၊လူသားကို အပ်နှံ
သောသူသည်အမင်္ဂလာရှိ၏၊ထိုသူသည် ဖွားမြင်
ခြင်းကိုမခံရလျှင်၊ အနေသာ၍ကောင်းသည်ဟု
မိန့်တော်မူ၏၊
၂၂ ထိုအခါစားလျက်နေကြစဉ်တွင်ယေရှုသည်
မုန့်ကိုယူ၍၊ ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ မုန့်
ကိုပဲ့၍၊ ဤမုန့်ကား၊ ငါ၏ကိုယ်ဖြစ်၏၊ယူ၍စား
ကြလော့ဟု မိန့်တော်မူလျက်၊ တပည့်တော်တို့
၂၃ အား ပေးတော်မူ၏၊- ခွက်ကိုလည်းယူ၍ ကျေး
ဇူးတော်ကို ချီးမွမ်းပြီးမှသူတို့အားပေးတော်မူ
၂၄ လျှင်၊ထိုသူရှိသမျှတို့သည်သောက်ကြ၏၊-ကိုယ်
တော်ကလည်း၊ ဤခွက်ကား၊ ပဋိညည်တရား
သစ်နှင့်ဆိုင်၍၊ လူများအဖို့အလို့ငှါ သွန်းသော
၂၅ ငါ၏အသွေးဖြစ်၏၊- ငါအမှန်ဆိုသည်ကား၊ ဤ
စပျစ်ရည် မျိုးအသစ်ကို ဘုရားသခင်၏နိုင်ငံ
တော်၌ ငါမသောက်မှီ နေ့တိုင်အောင် ယခုမှစ
၂၆ ၍အဘယ်ငါမသောက်ရဟု မိန့်တော်မူ၏၊- ထို
နောက်၊ သီခြင်းဆိုပြီးမှ သံလွင်တောင်သို့ ထွက်
သွားကြ၏၊
၂၇ ထိုအခါ ယေရှုကလည်း၊ ကျမ်းစာ လာသည်
ကား၊ သိုးထိန်းကို ငါရိုက်သတ်၍၊ သိုးတို့သည်
ကွဲလွင့်ရကြလိမ့်မည်ဟု ရေးထားသည်နှင့် အ
ညီ၊ ယနေ့ညဉ့်တွင် သင်တို့ ရှိသမျှသည် ငါ
၂၈ ကြောင့်စိတ်ပျက်ကြလိမ့်မည်၊-ဆိုသော်လည်း
ငါသည် ထမြောက်ပြီးမှ သင်တို့ရှေ့၊ ဂါလိလဲ
၂၉ ပြည်သို့သွားမည်ဟုမိန့်တော်မူသော်၊-ပေတရု
က၊ ဤသူရှိသမျှတို့ သည် စိတ်ပျက် ကြသော်
လည်း၊အကျွန်ုပ်သည်စိတ်မပျက်ပါဟုလျှောက်
၃၀ သော်၊-ယေရှုကလည်း၊ငါအမှန်ဆိုသည်ကား၊
ယနေ့ညည့်တွင်ပင် ကြက်သည် နှစ်ကြိမ် မတွန်
မှီ သင်သည် သုံးကြိမ် မြောက်တောာ်ငြင်း
၃၁ ပယ်လိမ့်မည်ဟုမိန့် တော်မူလျှင်၊- ပေတရုက၊
ကိုယ်တော် နှင့် တကွ သေရသော် လည်း၊ အ
ကျွန်ုပ်သည် ကိုယ်တော်ကို မငြင်းမပယ်ပါ ဟု၊
သာ၍ မိုင်ခံ့သောစကားနှင့်လျှောက်ပြန်၏၊ ထို
သူအပေါင်းတို့သည်လည်း၊ ထိုနည်းတူလျှောက်
ကြ၏၊
၃၂ ထိုအခါဂေသရေမန်အရပ်သို့ရောက်ကြလျှင်
ကိုယ်တော်က၊ ငါဆုတောင်းစဉ်တွင် သင်တို့
သည် ဤအရပ်၌ ထိုင်နေ ကြလော့ဟု၊ တပည့်
၃၃ တော်တို့အား မိန့် တော်မူပြီးမှ၊- ပေတရု၊ ယာ
ကုပ်၊ယောဟန်တို့ကိုခေါ်သွား၍၊ မိန်းမောတွေ
၃၄ ဝေခြင်း၊စိတ်ပူပန်ခြင်းသို့ရောက်တော်မူ၏၊-ထို
အခါ၊ ငါသည်သေလောက်အောင် စိတ်နှစ်လုံး
အလွန် ညှိုးငယ်ခြင်းရှိ၏၊ ဤအရပ်၌ စောင့်နေ
ကြလော့ဟု၊ တပည့်တော် သုံးယောက်တို့အား
၃၅ မိန့်တော်မူ၍၊- ထိုမှ အနည်းငယ် လွန်ပြန်လျှင်
မြေပေါ်မှာ ပြပ်ဝပ်၍၊ ထိုအခါ ခမည်း တော်၊-
၃၆ ကိုယ်တော်သည် အလုံးစုံတို့ကို တတ်နိုင်တော်မူ
၏၊ဤခွက်ကိုအကျွန်ုပ်မှလွှဲတော်မူပါ၊ သို့သော်
လည်း၊ အကျွန်ုပ်အလိုရှိသည်အတိုင်းမဖြစ်ပါ
စေနှင့်၊ ကိုယ်တော်အလိုရှိသည်အတိုင်း ဖြစ်ပါ
စေသောဟူ၍၊ ထိုအချိန်နာရီသည် မိမိနှင့် လွန်
သွားနိုင်လျှင်၊ လွန်သွားပါမည်အကြောင်း ဆု
၃၇ တောင်းတော်မူပြီးမှ၊- ပြန်လာ၍ တပည့်တော်
တို့သည် အိပ်ပျော်လျက် နေကြသည် ကို တွေ့
တော်မူလျှင်၊ ရှိမုန်၊ သင်သည်အိပ်ပျော်သလော၊
တနာရီ ခန့် မျှ စောင့်နေခြင်းငှါ မစွမ်းနိုင်သ
၃၈ လော၊-စုံစမ်းနှောင့်ရှက်ခြင်းနှင့်ကင်းလွတ်မည်
အကြောင်း၊ ဆုတောင်းလျက်စောင့်နေကြလော့၊
စိတ်ဝိညာဉ်ကား၊ စေတနာ ရှိငြား သော်လည်း၊
ကိုယ်မူကားအားနည်းသည်ဟု၊ပေတရုအားမိန့်
၃၉ တော်မူပြီးမှ၊- တဖန် သွား၍ ရှေ့မြွက်ဆိုသည်
၄၀ နည်းတူ ဆုတောင်းတော်မူ၏၊- ထိုနောက်၊ တ
ပည့်တော်တို့ ရှိရာသို့ပြန်၍၊ သူတို့သည် မျက်စိ

ထေး ထံ သဖြင့် တဖန် အိပ် ပျော် လျက် နေ ကြ
သည်ကိုတွေ့တော်မူ၏၊ သူတို့သည် အဘယ်သို့
၄၁ လျှောက်ရမည်ကို မသိကြ၊- သုံးကြိမ် မြောက်
အောင်သူတို့ရှိရာသို့ပြန်လာလျှင်၊ယခုအိပ်ပျော်
၍ငြိမ်ဝပ်စွာနေကြသေး၊ အမှုလွန်ပြီ၊ လူသား
ကိုဆိုးသောသူတို့လက်သို့ အပ်နှံရသောအချိန်
၄၂ ရောက်လာပြီ၊-ထကြ၊ငါတို့သည်သွားကြကုန်
အံ့၊ ငါ့ကိုအပ်နှံသော သူသည် ရောက်လာပြီဟု
မိန့်တော်မူ၏၊
၄၃ ထိုသို့မိန့်တော်မူစဉ်တွင်ပင် တပည့်တော်တ
ကျိပ်နှစ်ပါး၊ အဝင် ဖြစ်သော ယုဒရှကဘုတ်နှင့်
အတူ ယဇ်ပုရောဟိတ်အကြီး၊ကျမ်းပြုဆရာ၊လူ
အကြီး အကဲများ၊ စေလွှတ် သော လူ အစုအဝေး
အပေါင်းတို့သည်ဓား နှင့် ဒုတ်များကိုကိုင်လျက်
၄၄ ချုတ်ချင်းလာကြ၏၊-ကိုယ်တော်ကိုအပ်နှံသော
သူက၊ ငါနမ်းသောသူသည်ယေရှုပင်ဖြစ်၏၊ သူ
ကိုဖမ်း၍ လုံချုံစွာဆောင်သွားကြဟု၊ ထိုသူတို့
၄၅ အား အမှတ် ပေး ခဲ့ သည် အတိုင်း၊- သူ သည်
ရောက်လျှင်၊ ကိုယ်တော်ရင်းသို့ချက်ချင်းချဉ်း
ကပ်၍၊ အရှင်ဘုရား၊ အရှင်ဘုရား ဟုဆိုလျက်
၄၆ နမ်းလေ၏၊-ထိုသူတို့သည်လာ၍ ကိုယ်တော်ကို
၄၇ ဆွဲကိုင်ဖမ်းဆီးကြ၏၊- အနား၌ ရပ်နေသောသူ
တယောက်သည်ဓားကိုဆွဲထုတ်ပြီးလျှင်၊ ယဇ်
ပရောဟိတ်မင်း၏ကျွန်တယောက်ကိုခုတ်သဖြင့်
၄၈ နားရွက်ပြတ်လေ၏၊- ယေရှုကလည်း၊ သင်တို့
သည်ထားမြကိုဖမ်းသကဲ့သို့ငါ့ကိုဖမ်းဆီးခြင်းငှါ ဓား နှင့် ဒုတ် များကို ကိုင်စွဲလျက် လာကြ
၄၉ သည်တကား၊-ငါသည်ဗိမာန်တော်၌နေ့တိုင်း
ဆုံးမ ပြဝါဒ ပေးလျက်၊ သင်တို့အထဲ၌ ရှိနေ
စဉ်အခါ သင်တို့သည် ငါ့ကိုမဖမ်း မဆီးကြ၊ ဤ
၅၀ အကြောင်းအရာကား၊-ကျမ်းစာပြည့်စုံမည်အ
ကြောင်းတည်းဟု၊ထိုလူများကိုမိန့်တော်မူ၏၊-
၅၁ ထိုအခါ တပည့်တော် အပေါင်းတို့သည် ကိုယ်
တော်ကိုစွန့်ပြစ်၍ပြေးကြ၏၊ လူထင်တယောက်
သည် ခေါင်တထည်ကိုသာ ဝတ်လျက်၊ နောက်
တော်သို့လိုက်သည်ဖြစ်၍၊ မင်းလုလင်တို့သည်
၅၂ ထိုသူကိုဖမ်းဆီးကြ၏၊- သူသည်လည်း ခေါင်
ကို စွန့်ပြစ်၍ အဝတ်မရှိဘဲ၊ လုလင်တို့ လက်မှ
လွတ်ပြေးလေ၏၊
၅၃ ထိုသူတို့သည်ယေရှုကို ယဇ်ပရောဟိတ်မင်း
ထံသို့ဆောင်သွားကြ၏၊ ထိုမင်းထံ၌ယဇ်ပရော
ဟိတ်အကြီး၊ လူအကြီးအကဲ၊ ကျမ်းပြုဆရာအ
၅၄ ပေါင်းတို့သည် စည်းဝေးကြ၏၊- ပေတရုသည်
လည်း၊ ယဇ်ပရောဟိတ်မင်း၏ အိမ်ဦး အတွင်း
သို့တိုင်အောင် ကိုယ်တော်နှင့် ဝေးစွာလိုက်ပြီး
လျှင်၊ မင်းလုလင်တို့နှင့် အတူထိုင်၍ မီးလှုံနေ
၅၅ ၏၊- ယဇ်ပရောဟိတ်အကြီးတို့နှင့်လွှတ်အရာရှိ
အပေါင်း တို့ သည် ယေရှုကို သတ် ရမည် အ
ကြောင်း၊သက်သေကိုရှာသော်လည်းမတွေ့ကြ၊-
၅၆ လူများ တို့သည် မမှန် သော သက်သေ ကို ခံကြ
သော်လည်း၊ သူတို့၏သက်သေခံချက် သည် မ
၅၇ ညီ၊- အချို့ တို့သည်ထ၍၊ ဤသူက၊ လူတို့လက်
၅၈ ဖြင့်လုပ်သော၊-ဤဗိမာန်တော်ကိုငါဖြိုဖျက်၍၊
လူတို့လက်ဖြင့် မလုပ် သောဗိမာန်တော် တဆူ
ကို တည်ဆောက် မည်ဟု ပြော ဆိုသည်ကို အ
၅၉ ကျွန်ုပ်တို့ကြားရပါပြီဟုသက်သေခံကြ၏၊- သို့
သော်လည်း၊ သူ တို့၏ သက်သေ ခံချက် သည် မ
၆၀ ညီ၊- ယဇ်ပရောဟိတ်မင်းသည်အလယ်၌ မတ်
တတ်ထ၍၊ သင်သည်တစုံးမျှပြန်၍မပြောသ
လော၊ ဤသူတို့သည်အဘယ်သို့ သက်သေခံသ
၆၁ နည်းဟု ယေရှုကိုမေးလျှင်၊- ကိုယ်တော်သည်
တစုံးမျှပြန်ပြောတော်မမူဘဲတိတ်ဆိတ်စွာနေ
၏၊ တဖန် ယဇ် ပရောဟိတ် မင်းက၊ သင်သည်
ခရစ်တော်တည်းဟူသောမင်္ဂလာရှိသောဘုရား
သခင်၏သားတော်မှန်သလောဟုမေးပြန်လျှင်၊-
၆၂ ယေရှုက၊ မှန်၏၊ နောင်ကာလ၌ လူသားသည်
တန်ခိုးတော်၏လက်ျာလက်၌ထိုင်လျက်၊ မိုဃ်း
တိမ်ကို စီး၍ ကြွလာ သည်ကို သင်တို့ မြင် ရကြ
၆၃ လတ္တံ့ဟုမိန့်တော်မူ၏၊-ထိုအခါယဇ်ပရောဟိတ်
မင်းသည် မိမိ အဝတ်ကို ဆုတ်လျက်၊ အဘယ်
၆၄ သက်သေကို ထိုသေးသနည်း၊- ဘုရားကို အွန်
ကျူး၍ ပြောသောစကားကို သင်တို့ ကြားရပြီ၊
အဘယ်သို့ထင်မှတ်ကြသနည်းဟုမေးမြန်းလျှင်၊
ကိုယ်တော်သည် အသေခံထိုက်ကြောင်းကို ထို
၆၅ လူအပေါင်းတို့သည်စီရင်ကြ၏၊- ထိုအခါအချို့
တို့သည် ကိုယ်တော်ကို တံတွေးနှင့် ထွေးကြ၏၊
မျက်နှာတော်ကို ဖုံးပြီးလျှင်၊ လက်သီးနှင့် ထိုး
လျက်၊ပရောဖက်ပြု၍ဟောတော်မူပါဟု ဆိုကြ
၏၊မင်းလုလင်တို့သည်လည်းပါးတော်ကိုလက်
နှင့်ပုတ်ကြ၏၊
၆၆ ပေတရုသည် အောက်မှာ အိမ်ဦး၌ ရှိစဉ်၊
ယဇ် ပရော ဟိတ် မင်း ၏ အ စေ အ ပါ မိန်း မ တ
၆၇ ယောက်ထဦးထား၍၊- ပေတရုသည်မီးလှုံလျက်
နေသည်ကိုမြင်သောအခါ၊ထိုသူကိုစေ့စေ့ကြည့်၍၊

သင်သည်လည်း၊ နာဇရက်မြို့သား ယေရှုနှင့်
၆၈ ပေါင်းဖော်သောသူဖြစ်သည်ဟုဆိုလျှင်၊-ပေတ
ရုက၊သင်ပြောသောအရာကိုငါမသိ၊နားမလည်
ဟုငြင်းနုံပြီးမှ အိမ်ဦးရှေ့သို့ထွက်သော်၊ ကြက်
၆၉ တွန်လေ၏၊- နောက်တဖန်အစေအပါ မိန်းမသည်
ပေတရုကိုမြင်လျှင်၊ အနား၌ ရပ်နေသောသူတို့
အား၊ ဤသူသည်ထိုသူတို့အဝင်ဖြစ်သည်ဟု ဆို
၇၀ သော်၊- ပေတရုသည် တဖန် ငြင်းခုံပြန်၏၊ ထို
နောက် မြှာမကြာ၊ အနား၌ ရပ်နေသော သူတို့
က၊ အကယ်စင်စစ်သင်သည် ထိုသူတို့အဝင်ဖြစ်
၏၊သင်သည်ဂါလိလဲလူဖြစ်၏၊သင့်စကားလည်း
၇၁ တူ၏ဟုပေတရုကိုဆိုကြလျှင်၊-ပေတရုက၊သင်
တို့ပြောသောသူကို ငါမသိဟု မိဿာနှမ်ပြု၍ ကျိန်
၇၂ ဆိုသည်နောက်၊-တဖန်ကြက်တွန်လေ၏၊ ယေ
ရှုက၊ကြက်သည်နှစ်ကြိမ်မတွန်မှီသင်သည်သုံး
ကြိမ်မြောက်အောင် ငါ့ကို ငြင်းပယ်လိမ့်မည်ဟု
မိန့်တော်မူသောစကားကို၊ ပေတရုသည်သတိရ
သဖြင့်ခေါင်းကိုချုံ၍ငိုကြွေးလေ၏၊

၁၅

၁ နံနက်အချိန်တွင် ယဇ်ပရောဟိတ်အကြီးတို့
သည်မဆိုင်းမလင့်ဘဲ လူအကြီးအကဲ၊ ကျမ်းပြု
ဆရာ၊လွှတ်ဖဆရာမှုအပေါင်းတို့နှင့်တိုင်ပင်ခြင်း
ကို ပြု၍၊ ယေရှုကို ချည်နှောင်ပြီးလျှင်၊ ပိလတ်
၂ မင်းထံသို့ ဆောင်သွား၍ အပ်လိုက်ကြ၏၊- ပိ
လတ်မင်းက၊သင်သည်ယုဒရှင်ဘုရင်မှန်သလော
ဟု ကိုယ်တော်ကိုမေးလျှင်၊ မင်းကြီးမေးသည်
၃ အတိုင်းမှန်သည်ဟုမိန့်တော်မူ၏၊- ယဇ်ပရော
ဟိတ် အကြီး တို့သည် များစွာသော အပြစ်ကို
၄ တင်ကြ၏၊- တဖန်ပိလတ်မင်းက၊ သင်သည်တ
ခွန်းကို မျှပြန်၍ မပြောသလော၊ သင့်တဖက်၌
အ ထယ် မျှ လောက် သက်သေ ခံ ကြ သည် ကို
ကြည့် ပါ ဟု မေးမြန်း ပြော ဆို သော် ထည်း၊-
၅ စကားတခွန်းကိုမျှပြန်တော်မမူသည်ကိုပိလတ်
မင်းသည်အံ့သြလေ၏၊
၆ ထိုပွဲ၌ မြို့ဝန်မင်းသည် အကျည်းထားသော
လူတို့တွင်၊ လူများတောင်းသော သူတယောက်
၇ လောက်ကိုလွှတ်တတ်၏၊-ထိုအခါပုန်ကန်၍လူ
အသက်ကိုသတ်သောအပြစ်သင့်သော၊ ဗာရဗ္ဗ
အမည်ရှိသောသူ တယောက် ထည်၊ ပုန်ကန်
သော အပေါင်း အဖော် တို့နှင့်တကွ အကျည်းခံ
၈ လျှက်ရှိ၏၊- လူအပေါင်းတို့သည်မိမိတို့အားပြု
မြဲပြုပါမည်အကြောင်းအော်ဟစ်၍တောင်းပန်
၉ သောအခါ၊- ပိလတ်မင်းက၊ သင်တို့သည်ယုဒ
ရှင်ဘုရင်ကို လွှတ်စေချင်သလောဟု ပြန်၍ မေး
၁၀ ၏၊- အထယ်ကြောင့် ဤသို့ မေးသနည်း၊ ယုဒ
ကား၊ ယဇ်ပရောဟိတ် အကြီးတို့သည် မနာလို
သောစိတ်နှင့်ယေရှုကိုအပ်နှံကြောင်းကိုသိ၏၊-
၁၁ ပိလတ်မင်းသည် ယေရှုကိုမလွှတ်၊ ဗာရဗ္ဗကို
လွှတ်စေခြင်းငှါ၊ ယဇ်ပရောဟိတ် အကြီး တို့
၁၂ သည်လူအစုအဝေးကိုနှိုးဆော်ကြ၏၊- တဖန်ပိ
လတ်မင်းက၊ ယုဒရှင်ဘုရင်ဟု သင်တို့ခေါ်ဝေါ်
သောသူကိုအထယ်သို့ပြုရမည်နည်းဟုမေးပြန်
၁၃ သော်၊- ထိုသူ အပေါင်း တို့က၊ သူကို လက်ဝါး
၁၄ ကပ်တိုင်မှာရိုက်ထားပါဟုဟစ်ကြ၏၊- ပိလတ်
မင်းကထည်း၊ အထယ်ကြောင့်နည်း၊ အထယ်
အပြစ်ကို ပြုဘိ သနည်း ဟု မေး လျှင်၊ ထိုသူ ကို
လက်ဝါးကပ်တိုင်မှာ ရိုက်ထားပါဟု လူများတို့
၁၅ သည်သာ၍ဟစ်ကြ၏၊-ပိလတ်မင်းသည်ထည်း
လူများတို့၏စိတ်ကို ပြေစေခြင်းငှါအလိုရှိ၍၊ ဗာ
ရဗ္ဗကို သူတို့အား လွှတ်လေ၏၊ ယေရှုကိုကား၊
ရိုက် ပြီးလျှင် လက်ဝါး ကပ် တိုင် မှာ သတ် စေ
ခြင်းငှါအပ်လိုက်လေ၏၊
၁၆ ထိုအခါ စစ်သူရဲ တို့သည် ကိုယ် တော်ကို ပြ
တောရိုရုံးတည်းဟူသော အိမ်တော်ဦး အတွင်း
သို့ဆောင်သွား၍၊စစ်သူရဲတတပ်လုံးကိုစုရုံးစေ
ပြီးမှ ကိုယ်တော်အား နီမောင်းသော အဝတ်ကို
၁၇ ဝတ်စေ၍၊- ဆူးပင်နှင့်ရက်သောဦးရစ်ကို တင်
၁၈ ပြီးလျှင်၊- ယုဒရှင်ဘုရင်၊ ကိုယ်တော်သည်မင်္ဂ
လာရှိစေသတည်းဟု ကောင်းကြီးစကားကိုပြော
၁၉ ကြ၏၊-ခေါင်းတော်ကိုကျူလုံးနှင့်ရိုက်ခြင်း၊တံ
တွေးနှင့် တွေးခြင်း၊ ရှေ့တော်မှာ ဒူးထောက်၍
၂၀ ပြပ်ဝပ်ခြင်းကိုထည်း ပြုကြ၏၊- ထိုသို့ ကိုယ်
တော်ကိုပြက်ရယ်ပြုသည်နောက်၊ နီမောင်းသော
အဝတ်ကို ချွတ်၍ အဝတ်တော်ကို ဝတ်ပြန်စေ
ပြီးလျှင်၊လက်ဝါးကပ်တိုင်မှာရိုက်ထားခြင်းငှါ
ထုတ်သွားကြ၏၊
၂၁ အာလေဇန္ဒြု နှင့် ရုဖု၏ အဘ၊ ရှိမုန် အမည်
ရှိသော ကုရေနေ ပြည်သား တယောက် ထည်း၊
တောရွာမှလာ၍ ထမ်း၌သွားသည်ကို သူတို့သည်
တွေ့လျှင်၊ အနိုင် ပြု၍ လက်ဝါးကပ်တိုင် တော်
၂၂ ကို ထမ်းစေကြ၏၊- ဦးခေါင်းခွံ အရပ်ဟု ဆို
လိုသော ဂေါလဂေါသ အရပ်သို့ကိုယ်တော်ကို
၂၃ ဆောင်သွားပြီးမှ၊-စုရန်နှင့်ရောသောစပျစ်ရည်
ကို ကိုယ်တော်အား သောက် စေ့ သော ငှါ ပေး

၂၄ လှော်၊မဲချထဲနေတော်မူ၏။-လက်ဝါးကပ်တိုင်မှာ
မှိုက်ထားပြီးလျှင်၊ အဝတ်တော်ကို စာရေးတော်မူ
၂၅ ၍၊ အသီးအသီးယူထိုအား ဝေဖန်ကြ၏။- ကိုယ်
တော် ကို လက်ဝါးကပ် တိုင် မှာ မှိုက် ကြ သော
အချိန် ကား၊ နံနက် တချက် တီး အချိန် ဖြစ် သ
၂၆ တည်း။- အပြစ် ပေါ် ပြ သော ကမ္ပည်း ထိုး စာ
ချက် တူ မူ ကား၊ ယုဒ ရှင် ဘုရင် ဟု ရေး ထား
၂၇ သ တည်း။- ကိုယ် တော် နှင့် တကွ ထားမြ နှစ်
ယောက်တို့ကို လက်ျာတော်ဘက်၌တယောက်၊
လက်ဝဲတော်ဘက်၌ တယောက်၊လက်ဝါးကပ်
၂၈ တိုင်မှာ မှိုက်ထားကြ၏။- ထိုသို့ မ တရား သော
သူတို့နှင့် ရေတွက်ဝင်ခြင်းသို့ရောက်သည်ဟု ဆို
သော ကျမ်းစာချက်သည် ပြည့်စုံခြင်းသို့ရောက်
လေတည်း။
၂၉ လမ်းမှာ သွားလာသော သူတို့ကလည်း၊ ဟဲ့၊
ဗိမာန်တော်ကို ဖြိုဖျက်၍ သုံးရက်အတွင်းတွင်
၃၀ တည် ဆောက် ပြန်သော သူ၊- ကိုယ် ကို ကိုယ်
ကယ်တင်လော့၊လက်ဝါးကပ်တိုင်မှဆင်းလော့
ဟု၊မိမိတို့ခေါင်းကိုညိတ်၍ကဲ့ရဲ့သောစကားနှင့်
၃၁ ပြောဆိုကြ၏။-ထိုနည်းတူ၊ယဇ်ပုရောဟိတ်အ
ကြီး၊ကျမ်းပြုဆရာတို့က၊ဤသူသည်သူတပါးတို့
ကိုကယ်တင်တတ်၏၊ကိုယ်ကိုမကယ်တင်နိုင်ပါ
၃၂ တကား။-ငါတို့မြင်၍ယုံကြည်စေခြင်းငှါ၊ ဣသ
ရေလ ရှင်ဘုရင်တဦးဟူသောခရစ်တော်သည်
လက်ဝါးကပ်တိုင်မှယခုဆင်းပါလေစေဟု၊ အ
ချင်းချင်း ပြက် ရယ် ပြု၍ ပြောဆို ကြ၏၊ ကိုယ်
တော်နှင့်တကွ လက်ဝါးကပ်တိုင်မှာ မှိုက်ထား
သောသူတို့သည်လည်း ကဲ့ရဲ့ပြစ်တင်ကြ၏။
၃၃ နေ့တည့်အချိန်မှစ၍ သုံးချက်တီးအချိန်တိုင်
အောင်မြေတပြင်လုံး၌မှောင်မိုက်အတိဖြစ်လေ
၃၄ ၏။- သုံးချက်တီးအချိန်၌ ယေရှုက၊ ဧလိ၊ဧလိ၊
လာမရှာဗခသာနိဟု၊ ကြီးသောအသံနှင့်ကြွေး
ကြော်တော်မူ၏။ အနက်ကား၊ အကျွန်ုပ်ဘုရား၊
အကျွန်ုပ်ဘုရား၊ အဘယ်ကြောင့် အကျွန်ုပ်ကို
၃၅ စွန့်ပြစ်တော်မူသနည်းဟု ဆိုလိုသတည်း။- အ
နား၌ ရပ်နေသောသူအချို့တို့သည် ကြားလျှင်၊
၃၆ သူသည်ဧလိယကိုခေါ်သည်ဟုဆိုကြ၏။-လူတ
ယောက်သည်ပြေး၍၊ရေမှိုတခွေးကိုပုံးရည်နှင့်
ပြည့်စေပြီးလျှင်၊ ကျူ လုံးဖျား၌ တပ်၍ ကိုယ်
တော်အားသောက်စိမ့်သောငှါပေးလျက်၊ ရှိစေ
တော့၊ ဧလိယသည်သူကိုချယူခြင်းငှါ လာမည်
၃၇ မလာမည်ကိုကြည့်ကြကုန်အံ့ဟုဆို၏။- ယေရှု
သည်ကြီးသောအသံနှင့် ကြွေးကြော်၍ အသက်
ချုပ်တော်မူ၏။
၃၈ ထို အခါ ဗိမာန် တော် ၏ ကုလားကာ သည်
အထက်စွန်းမှ အောက်စွန်းတိုင်အောင် နှစ်ကွဲ
၃၉ လေ ၏။- ထို သို့ ကြွေး ကြော် ၍ အ သက် ချုပ်
တော်မူကြောင်းကို ရှေ့တော်၌ရပ်နေသောတပ်
မှူးသည်မြင်လျှင်၊စင်စစ်ဤသူသည်ဘုရားသခင်
၄၀ ၏ သား တော် မှန် ပေ၏ဟု ဆို၏။- မိန်းမအချို့ တို့
သည်လည်း၊ ထိုအရပ်၌အဝေးက ကြည့်ရှု၍နေ
၄၁ ကြ၏။- ထိုမိန်းမတို့တွင်ကိုယ်တော်သည်ဂါလိလဲ
ပြည်မှာ ရှိတော်မူစဉ်၊ နောက်တော်သို့ အထုံ
အ ကျွေး လိုက် သော မာဂဒလမာရိ၊ ယာကုပ်
ငယ်နှင့် ယောသေ၏အမိ ဖြစ်သော မာရိနှင့်ရှာ
လုံတို့ မှစ၍၊ နောက်တော် ၌ ယေရုရှလင် မြို့သို့
လိုက် လာသော အခြား မိန်းမများလည်းပေါ်ကြသ
တည်း။
၄၂ ထိုနေ့ကား၊ အဘိတ်နေ့တည်းဟူသောပရဿ
၄၃ နေ့ဖြစ်သောကြောင့် ညအချိန်ရောက်မှ- အသ
ရေရှိသောလွှတ်အရာရှိ၊ အရိမသဲမြို့သားယော
သပ်သည်၊ ဘုရား သခင်၏ နိုင်ငံ တော်ကို မျှော်
လင့်သောသူဖြစ်သည်နှင့်၊ ပိလတ်မင်းထံသို့ ရဲ
ရင့် စွာ ဝင် ၍ ယေရှု၏ အလောင်း တော် ကို
၄၄ တောင်းလေ၏။- ယေရှုသည် လစုပ်လေသည်
ကိုပိလတ်မင်းသည်အံ့ဩခြင်းရှိသဖြင့် တပ်
မှူးကိုခေါ်၍၊ သေသည် ကား ကြာ ပြီ လော ဟု
၄၅ မေး၏။- သေကြောင်းကို တပ်မှူးအားဖြင့် သိ
လျှင်၊ အလောင်းတော်ကို ယောသပ်အား အပ်
၄၆ ပေး၏။- ယောသပ်သည်ကိုယ်တော်ကိုချ၍၊မိမိ
ဝယ် ခဲ့ သော ပိတ် ချော နှင့် ပတ် ရစ် ပြီး လျှင်၊
ကျောက်၌ ထွင်းသော သင်္ချိုင်း တွင်း ထဲ မှာ
ထား၍၊ တွင်း၌ကျောက်ကို လှိမ့်ထားလေ၏။-
၄၇ မာဂဒလမာရိ၊ ယောသေ၏ အမိဖြစ်သောမာရိ
တို့ သည် အလောင်း တော် ထား ရာ အရပ် ကို
ကြည့်ရှုကြ၏။

## ၁၆

၁ ဥပုသ်နေ့လွန်မှ မာဂဒလမာရိ၊ယာကုပ်၏အ
မိဖြစ်သောမာရိနှင့် ရှာလုံတို့သည်သွား၍၊ အ
လောင်းတော်ကို လိမ်းခြင်းငှါ နံ့သာမျိုးကို ဝယ်
၂ ပြီးလျှင်၊-ခုနစ်ရက်တွင်ပဌမနေ့ရက်နံနက်စော
စော၊နေထွက်သောအချိန်၌သင်္ချိုင်းတော်သို့
၃ သွားကြ၏။- ထိုမိန်းမတို့က၊ တွင်းဝ၌ ပိတ်သော
ကျောက်ကို အဘယ် သူ လှိမ့် ဖွင့်၍ ပေးမည်

နည်းဟုအချင်းချင်းပြောဆိုပြီးမှ၊ ကြည့်ရှုလျှင်
ထိုကျောက်သည်ဖို့မှုံ့လှန်လျက်ရှိသည်ကိုမြင်
၄ ကြ၏။- ထိုကျောက်ကား အလွန်ကြီးသော
၅ ကျောက်ဖြစ်သတည်း။-မိန်းမတို့သည်တွင်းထဲသို့
ဝင်ကြပြီးလျှင်၊ လုလင်တယောက်သည် ဖြူစင်
ရှည်လျားသော အင်္ကျီကို ဝတ်လျက်၊ လက်ျာ
ဘက်၌ ထိုင်သည်ကိုမြင်၍ ထိတ်လန့် မိန်းမော
၆ ခြင်းသို့ရောက်ကြ၏။-ထိုသူကလည်း၊ထိတ်လန့်
မိန်းမောခြင်းမရှိကြနှင့်။ လက်ဝါးကပ်တိုင်မှာ
သတ်သောနာဇရက်မြို့သားယေရှုကိုသင်တို့ရှာ
ကြ၏။ ထိုသူသည် ထမြောက်တော်မူပြီ။ ဤအ
ရပ်၌မရှိ။ အလောင်းတော်ထားရာ အရပ်ကို
၇ ကြည့်ကြလော့။- သင်တို့ရှေ့၊ ဂါလိလဲပြည်သို့
ကြွတော်မူကြောင်းကို၊ ပေတရုမှစ၍ တပည့်
တော်တို့အားသွား၍ပြောကြလော့။အထက်က
မိန့်တော်မူသည်အတိုင်း၊ထိုပြည်၌သင်တို့သည်
ကိုယ်တော်ကိုတွေ့မြင်ရကြလိမ့်မည်ဟုပြောဆို
၈ ၏။- ထိုမိန်းမတို့သည်လည်း၊ သင်းချိုင်းတော်မှ
ထွက်၍ ထုန်လှုပ်လျက်၊ မိန်းမောတွေဝေလျက်
ပြေးကြ၏။ ကြောက်လန့်သောကြောင့် အဘယ်
သူကိုမျှမပြောမဆိုကြ။
၉ ကိုယ်တော်သည် ခုနှစ်ရက်ထွင်ပဌမနေ့ရက်
စောစော အချိန်၌ ထမြောက် ပြီးမှ၊ အထက်က
နတ်ဆိုးခုနှစ်ယောက်ကို နှင်ထုတ်တော်မူသော
မာဂဒလမာရိအား၊ ရှေ့ဦးစွာကိုယ်ကို ပြတော်
၁၀ မူ၏။-မာရိလည်း၊သွား၍၊ကိုယ်တော်နှင့်ပေါင်း
ဖော်သောသူတို့သည် ညည်းတွား ငိုကြွေးလျက်
နေကြစဉ်တွင်၊ သူတို့အား ထိုသိတင်းကိုကြား
၁၁ ပြောလေ၏။- ကိုယ်တော်သည် အသက်ရှင်တော်
မူသည်ကိုငင်၊ မာရိသည် ကိုယ်တော်ကို မြင်ရ
သည်ကိုငင်၊သူတို့သည်ကြားလျှင်မယုံကြ။
၁၂ ထိုနောက်၊တပည့်တော်နှစ်ယောက်တို့သည်
တောရွာသို့သွားစဉ်တွင်ကိုယ်တော်သည်ခြား
နားသောအရောင်ကို ဆောင်လျက် ကိုယ်ကိုပြ
၁၃ တော်မူ၏။-သူတို့သည်ပြန်လာ၍၊ အခြားသော
တပည့်တော်တို့အား၊ ထိုသိတင်းကို ကြားပြော
သော်လည်းမယုံတဲ့နေကြ၏။
၁၄ ထိုနောက်၊ တကျိပ်တပါးသော သူတို့ထမင်း
စားပွဲ၌ လျောင်းကြစဉ်တွင် ကိုယ်တော်ကို ပြ
တော်မူ၍၊ ထမြောက်လျက်ရှိသော ကိုယ်တော်
ကိုမြင်သောသူတို့၏စကားကိုမယုံသောကြောင့်
သူတို့မယုံတတ်သောစိတ်၊ မိုက်မသော စိတ်ကို
၁၅ ဆုံးမ၍ အပြစ်တင်တော်မူပြီးမှ၊- သင်တို့သည်
လောကီနိုင်ငံအရပ်ရပ်ရှိသမျှသို့သွား၍၊ဝေနေ
ယျသတ္တဝါအပေါင်းတို့အား၊ဧဝံဂေလိတရားကို
၁၆ ဟောကြလော့။-ယုံကြည်၍နှစ်ခြင်းကိုခံသောသူ
သည် ကယ်တင်တော်မူခြင်းသို့ ရောက်လတ္တံ့။ မ
ယုံကြည်သောသူမူကား၊ အပြစ်စီရင်ခြင်းကိုခံရ
၁၇ လတ္တံ့။-ယုံကြည်သောသူတို့၌ဖြစ်လတ္တံ့သောနိမိတ်
လက္ခဏာဟူမူကား၊ ငါ၏နာမကိုအမှီပြု၍၊ နတ်
ဆိုးတို့ကို နှင်ထုတ်ကြလတ္တံ့။ ထူးခြားသောဘာ
၁၈ သာစကားမျိုးတို့ကို ပြောကြလတ္တံ့။- မြွေတို့ကို
ဖမ်းကိုင်ကြလတ္တံ့။ သေစေတတ်သောအဆိပ်အ
တောက်ကို သောက်စားလျှင်၊ ဘေး ဥပါဒ်နှင့်
ကင်းလွတ်ကြလတ္တံ့။မကျန်းမမာသောသူတို့အ
ပေါ်မှာ လက်ကိုတင်၍ ချမ်းသာ ပေးကြလတ္တံ့
ဟုမိန့်တော်မူ၏။
၁၉ ထိုသို့သခင်ဘုရားသည် တပည့်တော်တို့အား
မိန့် တော်မူပြီးမှ၊ ကောင်းကင်ဘုံသို့ ဆောင်ယူ
ခြင်းကိုခံတော်မူ၍၊ဘုရားသခင်၏လက်ျာတော်
၂၀ ဘက်၌ထိုင်နေတော်မူ၏။- တပည့်တော်တို့သည်
လည်း၊ထွက်သွား၍၊သခင်ဘုရားသည်မစတော်
မူသည်နှင့်ငင်၊သူတို့၌ဖြစ်သောနိမိတ်လက္ခဏာ
အားဖြင့် ခွတ်ကပတ် တရားတော် ကို တည်စေ
တော်မူသည်နှင့်ငင်၊ ခပ်သိမ်းသော အရပ်တို့၌
တရားဟောကြ၏။

ရှင်မာကုခရစ်ဝင်ပြီး၏။

# ရှင်လုကာခရစ်ဝင်။

## LUKE.

၁

၁ ရှေးဦးစွာမှစ၍ ကိုယ်တိုင်မြင်သောသက်သေ
ဖြစ်လျက်၊ နှုတ်ကပတ်တော်မှုကို ဆောင်ရွက်
၂ သောသူတို့သည်၊- ငါတို့တွင် ထင်ရှားစွာ ဖြစ်
ပေပြီးသောအထုပ္ပတ္တိများကို ငါတို့အားကြား
ပြောသည်အစည်အတိုင်း မှတ်သားသောစာကို
စီရင်ရေးထားသောသူအများရှိကြသည်ဖြစ်၍၊-
၃ ငါသည်လည်း၊ ထိုအထုပ္ပတ္တိအလုံးစုံတို့ကို ရှေ့
၄ ဦးစွာမှစ၍၊- စေ့စေ့ ငွေရှာ လိုက် စစ် ပြီး လျှင်၊
ကိုယ်တော် သင်ပြီးသော အကြောင်းအရာ တို့
သည် ကေန် အမှန် ဖြစ်ကြောင်းကို ကိုယ်တော်
သိစေခြင်းငှါ၊ အစည်အတိုင်း ရေးထား၍ကြား
လိုက်မည်အကြံရှိပါ၏၊ အလွန်မြတ်သောသော်
ဖိလု၊
၅ ယုဒပြည် ကို အစိုးရသော ဟေရုဒ် မင်းကြီး
လက်ထက်၊ အဘိယ အသင်းအဝင်ဖြစ်၍၊ ဇာ
ခရိအမည်ရှိသော ယဇ်ပုရောဟိတ် တပါးရှိ၏၊
သူ၏ခင်ပွန်းသည် အာရုန်အမျိုး အနွယ်ဖြစ်၏၊
၆ ထိုအမည်ကား၊ ဧလိရှဗက် တည်း၊- ထိုသူ နှစ်
ယောက်တို့သည်ထာဝရဘုရား၏ပညတ်တရား
တော်အမျိုးမျိုးတို့ကို ကျင့်ဆောင်၍အပြစ်တင်
ခွင့်နှင့် လွတ်သဖြင့်၊ ဘုရား သခင် ရှေ့ တော်၌
၇ ဖြောင့်မတ်ခြင်းပါရမီရှိကြ၏၊-ဧလိရှဗက်သည်
မြံသောကြောင့် သူတို့သည် သားမရှိ၊ ထိုသူနှစ်
ယောက်တို့သည်အသက်အရွယ်ကြီးရင့်ကြ၏၊
၈ ဇာခရိသည် မိမိ အသင်း နှင့် တကွ အလှည့်
သင့်၍၊ဘုရားသခင်ရှေ့တော်၌ယဇ်ပုရောဟိတ်
၉ အမှုကိုဆောင်ရွက်သည်တွင်၊- ယဇ်ပုရောဟိတ်
ထုံးစံအတိုင်း စာရေးတံချသဖြင့်၊ သူသည် ထာ
ဝရ ဘုရား၏ ဗိမာန် တော် အတွင်း သို့ ဝင်၍နံ့
၁၀ သာပေါင်းကိုမီးရှို့ရ၏၊- ထိုသို့ နံ့သာပေါင်းကို
မီးရှို့သည်အချိန်တွင်၊ လူများအပေါင်းတို့သည်
၁၁ ပြင်၌ ဆုတောင်းလျက် နေကြ၏၊- ထိုအခါ ထာ
ဝရဘုရား၏ကောင်းကင်တမန်သည်ထင်ရှား၍၊
နံ့သာပေါင်းကိုရှို့သောယဇ်ပလ္လင်လက်ျာဘက်
၁၂ ၌ရပ်နေသည်ကို၊- ဇာခရိသည် မြင်လျှင်၊ စိတ်
နှစ်လုံးမငြိမ်မဝပ်ထိတ်လန့်ခြင်းသို့ရောက်၏၊-
၁၃ ကောင်းကင်တမန်ကလည်း၊ ဇာခရိ၊ ကြောက်
ရွံ့ခြင်းမရှိနှင့်၊ သင် ပြုသော ပဌနာ ကို နား ခံ
တော်မူပြီ၊ သင်၏ခင်ပွန်းဧလိရှဗက်သည်သား
ယောက်ျားကို ဖွား မြင် လိမ့် မည်၊ ထိုသား ကို
၁၄ ယောဟန် အမည်ဖြင့် မှည့်ရမည်၊- သင်သည်
ဝမ်းသာရွှင်မြူးခြင်းရှိလိမ့်မည်၊ထိုသားကိုဖွား
မြင်သောကြောင့်လူအများတို့သည်လည်းဝမ်း
၁၅ မြောက်ခြင်းသို့ရောက်ကြလိမ့်မည်၊-အကြောင်း
မူကား၊ ထိုသားသည် ထာဝရဘုရားရှေ့တော်၌
ကြီးမြတ်သော သူဖြစ်လိမ့်မည်၊ စပျစ်ရည် နှင့်
ထစ်မျိုးကို မ သောက်ဘဲနေ၍၊ အမိဝမ်းထဲက
ပင် သန့်ရှင်းသောဝိညာဉ်တော်နှင့် ပြည့်ဝလိမ့်
၁၆ မည်၊- ဣသရေလအမျိုးသားအများတို့ကိုသူတို့
ဘုရားသခင် ထာဝရဘုရား ထံတော်သို့ ပြောင်း
၁၇ လဲစေလိမ့်မည်၊- အဘတို့နှင့်သားတို့ကို အသင့်
အတင့် ဖြစ်စေ ခြင်းငှါလည်း၊ ငြင်းဆန်သော သူတို့
ကို သူတော်ကောင်းတို့၏ သတိ ပညာ ထံ သို့
ပြောင်းလဲစေသောအားဖြင့်၊ ထာဝရဘုရားအမှု
အလိုငှါ ပြင်ဆင်သော လူမျိုး ဖြစ်စေခြင်းငှါလည်း၊
သူသည်ဧလိယ၏ စိတ်ဝိညာဉ်တန်ခိုးနှင့် ပြည့်
စုံလျက်၊ ဘုရားသခင်ရှေ့တော်သို့သွားလိမ့်မည်
ဟု၊ ကောင်းကင်တမန်ပြောဆို၏၊
၁၈ ဇာခရိ ကလည်း၊ ထိုသို့ ဖြစ်လိမ့်မည်ကို အ
ကျွန်ုပ်သည် အဘယ်သို့ သိရပါမည်နည်း၊ အ
ကျွန်ုပ် သည် လူအို ဖြစ် ပါ၏၊ အကျွန်ုပ် မယား
သည်လည်း အသက် အရွယ် ကြီး ရင့် ပါပြီဟု၊
၁၉ ကောင်းကင်တမန်အား ပြောဆိုလျှင်၊-ကောင်း
ကင်တမန်က၊ ငါသည် ဘုရားသခင်အထံတော်
၌ခစားသောဂါဗြေလဖြစ်၏၊ သင့်ကိုနှုတ်ဆက်
၍ဤဝမ်းမြောက်စရာသိတင်းကိုကြားပြောစေ
၂၀ ခြင်းငှါ ငါကိုစေလွှတ်တော်မူ၏၊- သင်သည် ငါ
စကားကိုမယုံသောကြောင့် ဤအကြောင်းအရာ
မဖြစ်မှီနေ့ တိုင်အောင် စကား မ ပြောနိုင်ဘဲ၊ အ
လျက် နေလိမ့်မည်၊ ငါစကားသည်ကား၊ အချိန်
တန်လျှင်ပြည့်စုံလိမ့်မည်ဟုပြောဆို၏၊

၂၁ လူများတို့သည် ဇာခရိကိုငံ့လင့်၍၊ ဗိမာန်
တော်အတွင်း၌ကြာမြင့်စွာနေသည်ကိုအံ့ဩ
၂၂ ခြင်းရှိကြ၏။- သူသည်ထွက်လာသောအခါ
စကားမပြောနိုင်သည်ဖြစ်၍၊ဗိမာန်တော်၌ဗျာ
ဒိတ်ရူပါရုံကိုမြင်ပြီဟုရိပ်မိကြ၏။ ဇာခရိသည်
သူတို့အားအရိပ်အမှတ်ကိုသာပေး၍စကားအ
၃ လွတ်နေ၏။- ယဇ်ပုရောဟိတ်အမှုကိုဆောင်
ရွက်ရသောအချိန်ကာလကုန်သောအခါ၊ ဇာ
၂၄ ခရိသည်မိမိအိမ်သို့သွားလေ၏။- ထိုနောက်၊သူ
၂၅ ၏ခင်ပွန်းဧလိသဗက်သည် ပဋိသန္ဓေစွဲ၍၊- ငါ
သည် လူတို့တွင် ခံရသောကဲ့ရဲ့ခြင်းအကြောင်း
ကို ထာဝရဘုရားသည် ပယ်ရှင်းခြင်းငှါ ငါ့ကို
ကြည့်ရှုတော်မူစဉ်တွင်၊ဤကျေးဇူးတော်ကိုပြု
တော်မူပြီဟု ဆိုလျက်၊ ငါးလပတ်လုံးအိမ်တွင်း
၌အောင်း၍နေလေ၏။

ငါးလ လွန်သောအခါ၊ ဂါလိလဲ ပြည် နာဇ
ရက်မြို့၌ ဒါဝိဒ်အမျိုးသား ယောသပ်အမည်ရှိ
၂၇ သော လူနှင့်ထိမ်းမြားဆောင်နှင်း၍၊- မရှက်
တင်သေးသော သတို့သမီး ကညာဆီသို့၊ ဘုရား
သခင် သည် ကောင်းကင်တမန် ဂါဗြေလ ကိုစေ
လွှတ်တော်မူ၏။ ထိုသတို့သမီးကညာကား၊ မာရိ
၂၈ အမည်ရှိ၏။- ကောင်းကင်တမန် သည် ရောက်
လာလျှင်၊ ကျေးဇူးတော်ကို ခံရသောမိမ္မ၊ သင့်
အား မင်္ဂလာ ဖြစ်စေ သတည်း။ ထာ ဝရဘုရား
သည် သင် နှင့် အတူရှိတော်မူ၏။ သင်သည်မိမ္မ
တကာတို့ထက်မြတ်စွာသော မင်္ဂလာရှိသည်ဟု
၂၉ ပြောဆို၏။- မာရိသည်ထိုစကားကိုကြားလျှင်၊
စိတ်နှစ်လုံး မငြိမ်မဝပ်ရှိ၍၊ ဤနှုတ်ဆက် ခြင်း
ကား၊ အ ဘယ် သို့သော နှုတ် ဆက် ခြင်း ဖြစ်
လိမ့်မည်နည်းဟု တွေးတော ဆင်ခြင်၍ နေ၏။-
ကောင်းကင်တမန်ကလည်း၊ မာရိ၊ ကြောက်ရွံ့
ခြင်းမရှိနှင့်။ သင်သည် ဘုရားသခင် ရှေ့တော်
၃၁ ၌ မျက်နှာ ရပြီ။- သင်သည် ပဋိသန္ဓေ စွဲယူ၍၊
သား ယောက်ျားကို ဖွားမြင်လိမ့်မည်။ ထိုသား
၃၂ ကိုယေရှုအမည်ဖြင့်မှည့်ရမည်။-ထိုသားသည်
ကား၊ကြီးမြတ်သောသူဖြစ်လိမ့်မည်။အမြင့်ဆုံး
သောဘုရား၏သားတော်ဟုခေါ်ဝေါ်သမုတ်ခြင်း
ကို ခံရလိမ့်မည်။ သူ့အဘ ဒါဝိဒ်၏ရာဇပလ္လင်ကို
ထာဝရ အရှင် ဘုရားသခင်သည် သူ့အား ပေး
၃၃ တော်မူမည်။-ထိုသူသည်ထည်းယာကုပ်အမျိုး
အနွယ်ကိုအစဉ်မပြတ်အုပ်စိုးလိမ့်မည်။ သူ၏
နိုင်ငံသည်ထည်းဆုံးခြင်းမရှိရဟုပြောဆို၏။

၃၄ မာရိကလည်း၊ ဤအမှု အရာသည် အဘယ်
သို့ဖြစ်လိမ့်မည်နည်း။အကျွန်ုပ်သည်ယောက်ျား
နှင့်မဆက်ဆံပါဟု၊ကောင်းကင်တမန်အားပြန်
၃၅ ပြော၏။-ကောင်းကင်တမန်ကလည်း၊ သန့်ရှင်း
သောဝိညာဉ်တော်သည်သင်၏ အပေါ်မှာသက်
ရောက်တော်မူ၍၊ အမြင့်ဆုံးသော ဘုရား၏တန်
ခိုး အာနုဘော်တော်သည် သင့်ကို လွှမ်းမိုးလိမ့်
မည်။ ထိုအကြောင်းကြောင့် ထို သန့်ရှင်းသော
သားသည်လည်း၊ ဘုရားသခင်၏သားတော်ဟု
၃၆ ခေါ်ဝေါ်သမုတ်ခြင်းကို ခံရလိမ့်မည်။- ထို့မှတ
ပါး၊ အမြုံမဟူ၍ ခေါ်ဝေါ်သော သင်၏ အဆွေ
အမျိုး ဧလိသဗက်သည် ပဋိသန္ဓေ စွဲယူ၍ ယခု
၃၇ ခြောက်လ အဝင်ရှိပြီ။- ဘုရား သခင် တတ်နိုင်
၃၈ တော်မမူသော အမှု မရှိဟုပြောဆိုလျှင်၊- မာရိ
က၊ အကျွန်ုပ်သည်ထာဝရဘုရား၏ ကျွန်မဖြစ်
ပါ၏။ ကိုယ်တော်၏ စကား အတိုင်း အကျွန်ုပ်၌
ဖြစ်ပါစေသောဟုဝန်ခံပြီးမှ၊ ကောင်းကင်တမန်
သည်မာရိထံမှသွားလေ၏။

၃၉ ထိုအခါမာရိသည်ထ၍၊ တောင်ကြားအရပ်
၌ ရှိသောယုဒမြို့တမြို့သို့ အလျင်အမြန် သွားပြီး
၄၀ လျှင်၊- ဇာခရိအိမ်သို့ဝင်၍ ဧလိသဗက်ကိုနှုတ်
၄၁ ဆက်လေ၏။- ထိုနှုတ်ဆက်ခြင်းစကားကို ဧလိ
သဗက်သည်ကြားစဉ်တွင်မိမိဝမ်း၌ ရှိသောသူ
ငယ်သည်ခုန်၍၊မိမိသည်သန့်ရှင်းသော ဝိညာဉ်
၄၂ တော်နှင့်ပြည့်ဝလျက်၊- သင်သည်မိမ္မတကာတို့
ထက်မြတ်စွာသောမင်္ဂလာရှိ၏။ သင်၏ဝမ်း၌ရှိ
သောသူငယ်သည်လည်း မြတ်စွာသောမင်္ဂလာ
၄ ရှိ၏။-အကျွန်ုပ်သခင်၏မယ်တော်သည်အကျွန်ုပ်
ဆီသို့ ကြွ လာ သော ကျေး ဇူး ကို အ ဘယ် အ
၄၄ ကြောင်းကြောင့်အကျွန်ုပ်ခံရပါသနည်း။- သင်
၏ နှုတ်ဆက်ခြင်းစကားသံကို အကျွန်ုပ် ကြား
စဉ်တွင်၊ အကျွန်ုပ်ဝမ်းထဲ၌ သူငယ်သည် ရွှင်
၄၅ ရွှင်သောစိတ်နှင့် ခုန်၏။-ယုံကြည်သောမိမ္မသည်
မင်္ဂလာရှိ၏။အကြောင်းမူကား၊ ထိုမိမ္မအားထာ
ဝရဘုရားမိန့်တော်မူသော စကားသည် ပြည့်စုံ
လိမ့်မည်ဟု၊ကြီးသောအသံနှင့်မြွက်ဆို၏။

၄၆ မာရိကလည်း၊ ငါ့စိတ်နှလုံးသည် ထာဝရ
၄၇ ဘုရားကို ချီးမွမ်း၏။- ငါ့ကို ကယ်တင် တော်မူ
သောအရှင်၊ ဘုရားသခင်ကိုအမှီပြု၍ ငါ့ဝိညာဉ်
၄၈ သည် ရွှင်လန်းခြင်းရှိ၏။- အကြောင်း မူကား
မိမိကျွန်မ၏ နှိမ့်ချသောအဖြစ်ကို ကြည့်ရှုတော်
မူပြီ။နောင်ကာလ၌ခပ်သိမ်းသောလူအစဉ်အ

ဆက်တို့သည်ငါ့ကို မင်္ဂလာရှိသောသူဟူ၍ ခေါ်
၄၉ ကြလိမ့်မည်။- တန်ခိုးနှင့် ပြည့်စုံတော်မူသော
ဘုရားသည် အံ့ဖွယ်သော ကျေးဇူးတော်ကို
ငါ့အားပြုတော်မူပြီ။ထိုဘုရား၏နာမတော်သည်
၅၀ ရိုသေဖွယ်ဖြစ်တော်မူ၏။- ထာဝရဘုရားကို
ကြောက်ရွံ့သော သူတို့သည် သနားတော်မူခြင်း
၅၁ ကျေးဇူးကိုအစဉ်မပြတ်ခံစားကြ၏။-လက်ရုံး
တော်အားဖြင့် တန်ခိုးကို ပြတော်မူပြီ။ မာန
ထောင်လွှားသော သူတို့ကို ကွဲလွင့်စေတော်မူ
၅၂ ပြီ။- ဘုရင်တို့ကို ရာဇပလ္လင်ပေါ်မှ ချ၍၊ နှိမ့်ချ
၅၃ သောသူတို့ကို ချီးမြှောက်တော်မူပြီ။- ငတ်မွတ်
သောသူတို့ကို ကောင်းမွန်စွာ ကျွေး၍၊ ရတတ်
သောသူတို့ကိုလက်ချည်းလွှတ်လိုက်တော်မူပြီ။-
၅၄ ငါတို့ဘိုးဘေးများတို့အား ဗျာဒိတ်ထားတော်မူ
၅၅ သည်နှင့်အညီ၊- အာဗြဟံမှစသောသူ၏အမျိုး
အနွယ်အား သနားခြင်းကျေးဇူးတော်ကို အ
စဉ်အမြဲပြုခြင်းငှါ သတိထား၍၊ မိမိကျွန်ဣသ
၅၆ ရေလကိုမစတော်မူပြီဟုဆို၏။-မာရိသည်ဧလိ
ဇဗက်ထံမှာ သုံးလခန့်နေပြီးမှ မိမိအိမ်သို့
ပြန်လေ၏။
၅၇ ဧလိဇဗက်သည် ဖွားအံ့သောနေ့လစေ့သော
၅၈ အခါ သားယောကျ်ားကို ဖွားမြင်၏။- ထာဝရ
ဘုရားသည် ထူးမြတ်သော သနားခြင်းကျေးဇူး
တော်ကို ဧလိဇဗက်အား ပြုတော်မူသည်ကို၊
အိမ်နီးချင်းအဆွေအမျိုးတို့သည် ကြားလတ်
သော်၊သူနှင့်အတူဝမ်းမြောက်ဝမ်းသာကြ၏။-
၅၉ ရှစ်ရက်မြောက်သောနေ့၌ အရေဖျားလှီးခြင်း
ကိုသူငယ်အားပေးအံ့သောငှါလာကြ၍၊ အဘ၏
အမည်ဖြစ်သော ဇာခရိအမည်ဖြင့် မှည့်သော
၆၀ အခါ၊ အမိက၊ ထိုသို့မမှည့်ရ။- ယောဟန်အမည်
၆၁ ဖြင့်မှည့်ရမည်ဟုဆိုလျှင်၊ သူတို့က၊- ယောဟန်
အမည်ဖြင့် သင်၏အဆွေအမျိုးတွင် တယောက်
၆၂ ကိုမျှမမှည့်ဟုဆို၍၊-အဘသည်အဘယ်သို့မှည့်
၆၃ စေလိုသနည်းဟု၊ အမှတ်အသားဖြင့်မေးကြ၏။-အ
ဘသည်လည်းသင်ပုန်းကိုတောင်း၍၊ သူ၏အမည်
ကားယောဟန်ဖြစ်၏ဟုရေးလေသော်၊ ထိုသူအ
၆၄ ပေါင်းတို့သည် အံ့ဩခြင်းရှိကြ၏။- ထိုခဏ
ချင်းတွင် ဇာခရိသည် နှုတ်ဖွင့်ခြင်း၊ လျှာလွတ်
ခြင်းရှိသည်ဖြစ်၍၊ စကားအားဖြင့်ဘုရားသခင်
၆၅ ၏ကျေးဇူးတော်ကိုချီးမွမ်းလေ၏။- အိမ်နီးချင်း
ရှိသမျှတို့သည်ကြောက်ရွံ့ခြင်းရှိကြ၍၊ ထိုအမှု
အရာများသည်ယုဒပြည်တောင်ကြားအရပ်တို့၌
၆၆ အနှံ့အပြားကျော်စောလေ၏။-ကြားသောသူအ
ပေါင်းတို့သည် နှစ်လုံးထဲ၌ မှတ်ထား၍၊ ဤသူ
ငယ်သည် အဘယ်သို့သောသူ ဖြစ်လိမ့်မည်နည်း
ဟု ဆိုကြ၏။ ထာဝရဘုရား၏ လက်တော်သည်
လည်းသူငယ်နှင့်အတူရှိတော်မူ၏။
၆၇ သူ၏အဘဇာခရိသည် သန့်ရှင်းသောဝိညာဉ်
၆၈-၇၅ တော်နှင့်ပြည့်ဝလျက်၊-ဣသရေလအမျိုး၏
ဘုရားသခင် ထာဝရဘုရားသည် မင်္ဂလာရှိတော်
မူစေသတည်း။ အကြောင်းမူကား၊ ကမ္ဘာဦးမှ စ
၍ပေါ်ထွန်းသော မိမိသန့်ရှင်းသောပရောဖက်
တို့ နှုတ်ဖြင့် ဗျာဒိတ်ထားတော်မူသည်နှင့်အ
ညီ၊ ငါတို့သည် ရန်သူဘေးနှင့် ကင်းလွတ်၍၊
ဘုရားသခင် ရှေ့တော်၌ တသက်လုံးသန့်ရှင်း
ဖြောင့်မတ်ခြင်း ပါရမီအားဖြင့်၊ ဘုရားဝတ်ကို
ရဲရင့်စွာပြုရသော အခွင့်ကိုပေးမည်ဟု၊ ငါတို့
အဘအာဗြဟံအားကျိန်ဆိုခြင်းဂတိတော်တည်း
ဟူသော၊ သန့်ရှင်းသော ပဋိညာဉ်တရားကို
အောက်မေ့တော်မူသဖြင့်၎င်း၊ငါတို့ဘိုးဘေးများ
နှင့် ဝန်ခံတော်မူသောသနားခြင်းကျေးဇူးကိုပြု
တော်မူသဖြင့်၎င်း၊မိမိလူမျိုးကိုအကြည့်အရှုကြွ
လာလျက်၊ ရွေးနှုတ်ခြင်းကျေးဇူးကိုပြုတော်မူ
၍၊ ငါတို့ကိုရန်သူလက်မှ၎င်း၊ မုန်းသောသူရှိသ
မျှတို့လက်မှ၎င်း ကယ်လွှတ်မည် အကြောင်း၊
ကယ်လွှတ်ခြင်းဦးချိုကိုမိမိကျွန်ဒါဝိဒ်အမျိုးထဲ
၌ငါတို့အားပေါ်ထွန်းစေတော်မူပြီ။
၇၆ အချင်းသူငယ်၊ သင်သည်လည်း အမြင့်ဆုံး
သောဘုရား၏ ပရောဖက်ဟုခေါ်ဝေါ်ခြင်းကိုခံရ
၇၇ လိမ့်မည်။-အကြောင်းမူကား၊ငါတို့ဘုရားသခင်
၏ သနားတော်မူခြင်း ကျေးဇူးတော်အားဖြင့်၊
အပြစ်ပြေ၍ ကယ်တင်ခြင်းသို့ ရောက်နိုင်
ကြောင်းကို ဘုရားသခင်၏လူမျိုးအားဖော်ပြသ
ဖြင့်၊ ထာဝရဘုရား၏လမ်းခရီးတော်ကိုပြင်ဆင်
ခြင်းငှါ သင်သည်ရှေ့တော်၌ သွားရလိမ့်မည်။-
၇၈ ထိုသနားတော်မူခြင်း ကျေးဇူးတော်အားဖြင့်၊
ကောင်းကင်မှနေအာရုဏ်သည် ငါတို့အပေါ်သို့
၇၉ တက်သဖြင့်၊-မှောင်မိုက်နှင့်သေမင်း၏အရိပ်ထဲ
တွင်ရှိနေသောသူတို့၌အလင်းပေါ်ထွန်း၍ ငါတို့
အားငြိမ်သက်ခြင်းလမ်းကို ပြလျက်ရှိသည်ဟု။
၈၀ ပရောဖက်ညာဏ်နှင့် ဟောလေ၏။- ထိုသူငယ်
သည်ကား၊ ကြီးပွား၍ဉာဏ်သတ္တိနှင့်ပြည့်စုံ၏။
ဣသရေလလူတို့အား မထင်ရှားမှီ တိုင်အောင်
တောအရပ်၌နေလေ၏။

## ၂

၁ ထိုအခါ တနိုင်ငံ လုံးကို စာရင်း ယူစေခြင်းငှါ
ကဲသာဘုရင်ဩဂုတ္တုသည် အမိန့် တော်ရှိ၏။-
၂ ကုရေနိသည် ရှုရိပြည်၌မြို့ဝန်ဖြစ်စဉ်တွင်၊ ဤ
၃ ပဌမစာရင်းယူခြင်းဖြစ်သတည်း။-လူအပေါင်း
တို့သည်စာရင်းဝင်ခြင်းငှါအသီးအသီးမိမိတို့မြို့
၄-၅ ရွာသို့သွားကြ၏။- ယောသပ်သည်ထည်းဒါ
ဝိဒ် အမျိုးအနွယ်ဖြစ်၍၊ ထိမ်းမြား ဆောင်နှင်း
သောမယား မာရိနှင့်အတူ စာရင်း ဝင်ခြင်းငှါ၊
ဂါလိလဲပြည် နာဇရက်မြို့မှ ယုဒပြည်တွင် ဗက်
လင် အမည်ရှိသော ဒါဝိဒ်၏မြို့သို့သွား၏။ ထိုအ
၆ ခါ မာရိသည်ပဋိသန္ဓေအရင့်အမာရှိ၏။- ဗက်
လင်မြို့၌ရှိနေစဉ်၊ ဖွားဘွဲ့သောနေ့ထနေ့လျှင်၊-
၇ သားဦးကို ဖွားမြင်၍ အဝတ်နှင့်ပတ်ရစ်ပြီးမှ၊
ဧည့် သည် တည်းရာ ဇရပ် ၌ သူတို့ နေ စရာ မရှိ
သောကြောင့်၊ သူငယ်ကို နွား စားခွက်၌ သိပ်
ထားလေ၏။

ထိုပြည်မှာသိုးထိန်းတို့သည်ညည့်အခါတော
အရပ်၌တည်းခိုလျက်၊ မိမိသိုးစုကိုစောင့်နေကြ
၉ သည်ဖြစ်၍၊-ထာဝရဘုရား၏ကောင်းကင်တမန်
သည်သူတို့အနားမှာပေါ်လာ၍၊ ပတ်ဝန်းကျင်
၌ ထာဝရဘုရား၏ ဘုန်းတော်ထွန်းတောက်သ
ဖြင့်၊ သူတို့ သည် အလွန် ကြောက် ရွံ့ ခြင်း သို့
၁၀ ရောက် ကြ၏။- ကောင်းကင် တမန် က လည်း၊
ကြောက်ရွံ့ခြင်းမရှိကြနှင့်။လူအပေါင်းတို့သည်
အလွန်ဝမ်းမြောက်ဝမ်းသာစရာ သိတင်းကို ငါ
၁၁ သည်သင်တို့အားကြားပြောရ၏။-ယနေ့တွင်ဒါ
ဝိဒ်၏မြို့၌သခင်ခရစ်တော်တည်းဟူသော၊ကယ်
တင်သောအရှင်သည် သင်တို့အဘို့အလို့ငှါ ဖွား
၁၂ မြင်ခြင်းကို ခံတော်မူပြီ။- သင်တို့သည် အထယ်
နိမိတ် ဖြင့် သိရ မည် နည်း ဟူ မူ ကား၊ သူငယ်
သည်အဝတ်နှင့် ပတ်ရစ်၍၊ နွားစား ခွက်၌သိပ်
ထားလျက်ရှိသည်ကိုတွေ့ကြလိမ့်မည်ဟုဆိုပြီး
၁၃ လျှင်၊- ထိုကောင်းကင်တမန်နှင့်အတူ ကောင်း
ကင်ဗိုလ်ခြေ အများတို့သည် ချက်ချင်း ထင်ရှား
၁၄ ၍၊-ကောင်းကင်အဝက်ဝယ်ဘုရားသခင်သည်
ဘုန်း ကြီး တော် မူစေသတည်း။ မြေကြီး ပေါ်၌
ထည်းငြိမ်သက်ခြင်းရှိစေသတည်း။ လူတို့အား
မေတ္တာကရုဏာရှိစေသတည်းဟု၊ ဘုရားသခင်
ကိုချီးမွမ်း၍မြွက်ဆိုကြ၏။
၁၅ ကောင်းကင်တမန်တို့သည်ကောင်းကင်ဘုံသို့
ပြန်ကြပြီးမှ သိုးထိန်းတို့က၊ငါတို့သည်ဗက်လင်
မြို့သို့သွားကြကုန်အံ့။ ထာဝရဘုရားသည် ဖော်
ပြတော်မူသော ဤအမှုအရာကိုကြည့်ကြကုန်အံ့
၁၆ ဟု အချင်းချင်းပြောဆိုပြီးလျှင်၊- အလျင်အမြန်
သွား၍မာရိနှင့်ယောသပ်ကိုငှင်၊နွားစားခွက်၌
သိပ်ထားလျက်ရှိသောသူငယ်ကိုငှင်တွေ့ကြ၏။-
၁၇ တွေ့မြင်ပြီးမှ မိမိတို့ကြားသောထိုသူငယ်၏ အ
၁၈ ကြောင်းစကားကို အနှံ့အပြားပြောကြ၏။- သိုး
ထိန်းတို့ပြောသောစကားကို ကြားသောသူရှိသ
၁၉ မျှတို့သည် အံ့ဩခြင်း ရှိကြ၏။- မာရိသည်
ို အကြောင်းအရာ အလုံးစုံတို့ကို မှတ်ကျုံး၍
၂၀ စဉ်းစားဆင်ခြင်လျက်နေ၏၊-သိုးထိန်းတို့သည်
လည်း၊ မိမိတို့အားပြောနှင့်သည်အတိုင်း ကြား
မြင်သမျှသော အကြောင်း အရာကိုထောက်၍၊
ဘုရားသခင်ကို အံ့ပြော ချီးမွမ်းလျက်ပြန်သွား
ကြ၏။
၂၁ ထို သူငယ်အား အရေဖျားလှီးခြင်းကို ပေးရ
သောအနေ့တည်းဟူသော ရှစ်ရက် မြောက်သော
နေ့ရောက်လျှင်၊ ပဋိသန္ဓေစွဲတော်မမူမှီ ကောင်း
ကင်တမန်မှည့်သော ယေရှုအမည်ဖြင့် မှည့်ကြ
၂၂ ၏။- ထိုနောက်၊မောရှေ၏ပညတ်တရားအတိုင်း
စင်ကြယ်ခြင်းကို ပြုရသော နေ့ရက်စေ့ သောအ
ခါ၊ မိထတို့သည် သူငယ်ကို ယေရု ရှလင်မြို့သို့
၂၃ ဆောင်သွား၍၊-သားဦးယောက်ျားအပေါင်းတို့
သည် ဘုရားအဘို့ သန့်ရှင်း ရကြ၏ဟု၊ ထာဝရ
ဘုရား၏ ပညတ္တိကျမ်း ထာသည်နှင့်အညီ၊ ထာ
၂၄ ဝရဘုရားအား ဆက်ကပ်ပြီးမှ၊- ငို နှစ်ကောင်
ဖြစ်စေ၊ ချိုးကလေးနှစ်ကောင်ဖြစ်စေ၊ တစုံစုံကို
ပူဇော်ရမည်ဟု၊ထာဝရဘုရား၏ပညတ္တိကျမ်း
လာပြန်သည်နှင့်အညီထပ်၍ပူဇော်ကြ၏။
၂၅ ထိုအခါရှုမောင်အမည်ရှိသောသူတယောက်
သည် ယေရုရှလင်မြို့၌ရှိ၏။ ထိုသူသည် ဖြောင့်
မတ်သောသူ၊ တရားကိုရိုသေသောသူ၊ ဣသရေ
လအမျိုး၏ သက်သာခြင်း အကြောင်းကို မျှော်
လင့်သောသူဖြစ်၏။ သန့်ရှင်းသောဝိညာဉ်တော်
၂၆ သည်သူ့အပေါ်၌ တည်သည်ဖြစ်၍၊- သူသည်
ထာဝရဘုရား၏ခရစ်တော်ကိုမမြင်မှီမသေရဟု
၂၇ ဗျာဒိတ်တော်ကိုရ၏။- ထိုအခါသူသည် ဝိညာဉ်
တော်အားဖြင့် ဗိမာန်တော်သို့သွား၍၊ မိထတို့
သည် သူငယ်ယေရှုကို ပညတ်တရား ထုံးတမ်း
၂၈ အတိုင်းပြုခြင်းငှါဆောင် သွားစဉ်တွင်၊-ရှုမောင်
၂၉ သည်ယေရှုကိုထက်နှင့်ချီပိုက်၍၊-ဘုရားသခင်၏
ကျေးဇူးတော်ကို ချီးမွမ်းလျက်၊ အစိုးရတော်မူ

သောအရှင်မျှာပိတ်တော်အတိုင်း၊ကိုယ်တော်၏
ကျွန်သည် ငြိမ်ဝပ်စွာ စုတေ့ရသော အခွင့်ကို
ကိုယ်တော် သည် ယခု တွင် ပေး တော်မူ ၏။-
၃၀-၃၂ ကိုယ်တော်၏ လူ ဣသရေလ အမျိုး ကို ချီး
မြောက်စေခြင်းငှါ၎င်း၊ တပါး အမျိုးသားတို့ကို
ထင်းစေခြင်းငှါ၎င်း၊ လူအမျိုးမျိုးတို့ ရှေ့မှောက်
၌ပြင်ဆင်တော်မူသော အလင်းတည်းဟူသော၊
ကယ်တင်သောသခင်ကို အကျွန်ုပ်သည် ကိုယ်
၃၃ မျက်စိနှင့် မြင်ရပါ၏ဟု မြွက်ဆို၏။- ထိုစကား
များကိုယောသပ်နှင့်မယ်တော်သည်ကြားလျှင်
၃၄ အံ့ဩခြင်းရှိကြ၏။- ရှိမောင်သည်ထိုသူ
တို့ကို ကောင်းကြီးပေး၍ မယ်တော်မာရိအား၊
ဤသူငယ်ကား၊ ဣသရေလလူအများလဲမည်အ
ကြောင်း၊ အများထမည့်အကြောင်း၊ လူအများ
တို့၏အကြံအစည်ကို ထင်ရှားစေခြင်းငှာ ငြင်းခုံ
စရာဖြစ်မည် အကြောင်း၊ ခန့်ထားသောသူဖြစ်
၃၅ ၏။- ထိုမှတပါး၊ သန်လျက်သည်သင်၏စိတ်နှစ်
လုံးကို ခွင်းလိမ့်မည်ဟုမြွက်ဆို၏။
၃၆ အာရှာအမျိုးဖြစ်သောဖနွေလ၏သမီး၊ အနာ
မည်ရှိသော ပရောဖက်မ တယောက် ရှိ၏။ သူ
သည်ပျိုသောအရွယ်မှစ၍ ခုနစ်နှစ်သာထင်နှင့်
၃၇ နေပြီးလျှင်၊- အသက်ကြီးရင့်၍ အနှစ်ရှစ်ဆယ်
လေးနှစ် ခန့်မျှ တိုင်တိုင် မုဆိုးမ ဖြစ်လျက်၊ ဆု
တောင်း၊ ခြင်းနှင့် အစာ ရှောင်ခြင်းအားဖြင့် နေ့
ညဥ့်မပြတ် ဘုရားဝတ် ကိုပြု၍ ဗိမာန် တော်
၃၈ နှင့် မကွာဘဲ နေ၏။- သူသည်လည်း ထိုခဏချင်း
ထွင်ဝင်၍၊ထာဝရဘုရား၏ကျေးဇူးတော်ကိုချီး
မွမ်းလေ၏၊ယေရုရှလင်မြို့၌ရွေးနုတ်ခြင်းအရာ
ကိုမျှော်လင့်သောသူအပေါင်းတို့အား ထိုသူငယ်
၃၉ ၏အကြောင်းကိုပြောလေ၏။-မိဘတို့သည်ထာ
ဝရဘုရား၏ ပညတ်တရားအတိုင်း ပြုရသမျှတို့
ကိုအကုန်အစင်ပြုပြီးမှ၊ဂါလိလဲပြည်၊ နာဇရက်
၄၀ အမည်ရှိသော မိမိတို့မြို့သို့ ပြန်ကြ၏။- သူငယ်
သည်ထည်းကြီးပွား၍ ပညာဉာဏ် သတ္တိနှင့်
ပြည့်စုံ၏။ ဘုရားသခင်၏ ကျေးဇူးတော် သည်
ထည်းသူအပေါ်၌တည်၏။
၄၁ မိဘတို့သည် နှစ်တိုင်း အစည်ပသခါပွဲခံချိန်
၄၂ ရောက်လျှင်၊ယေရုရှလင်မြို့သို့သွားကြ၏။-ယေ
ရှုသည် တဆယ် နှစ်နှစ် ရှိသော အခါ ပသခါပွဲ
ထုံးစံအတိုင်းယေရုရှလင်မြို့သို့တက်ကြ၍၊- ပွဲ
နေ့ရက်လွန်ပြီးမှ မိဘတို့သည်ပြန်ကြလျှင်၊ သူ
ငယ်ယေရှုသည် ယေရုရှလင်မြို့၌ နေရစ်လေ၏။
ယောသပ်နှင့်မယ်တော်သည် ထိုအကြောင်းကို
၄၄ မသိ၍၊-အပေါင်းအဖော်စုထဲမှာသူငယ်ပါသည်
ထုမှတ်ထင်နှင့်တနေ့ခရီးသွားမိလျှင်၊ အဆွေအ
၄၅ မျိုး အသိအကျွမ်းတို့တွင်ရှာ၍- မတွေ့သောအ
၄၆ ခါယေရုရှလင်မြို့သို့ ပြန်၍ရှာကြ၏။- သုံးရက်မှ
ကား၊ဗိမာန်တော်၌ ဆရာများအလယ်မှာထိုင်
၍၊ ထိုသူတို့နှင့်ဆွေးနွေးမေးမြန်းလျက်ရှိသည်
၄၇ ကိုမိဘတို့သည်သုံးရက်ကြာမှတွေ့ကြ၏။- သူ၏
စကားကိုကြားသောသူအပေါင်းတို့သည် သူ၏
ပညာကို၎င်း၊ စကား အဖြေကို၎င်း အံ့ဩကြ
၄၈ ၏။-မိဘတို့သည်သားကိုမြင်လျှင်၊မိန်းမောတွေ
ဝေ၍မယ်တော်က၊ သား၊ အဘယ်ကြောင့်ငါ
တို့အား ဤသို့ပြုသနည်း။ ဤ ငယ် ကြောင့်ကြ
သောစိတ်နှင့်မိဘတို့သည် မောင်ကိုရှာကြပြီဟု
၄၉ ဆိုသော်၊-ယေရှုက၊မိဘသည်အဘယ်ကြောင့်
အကျွန်ုပ်ကိုရှာရပါသနည်း။အကျွန်ုပ်သည်အဘ
၏အိမ်၌ နေရသည်ကို မသိပါသလောဟု ပြော
၅၀ ဆိုလျှင်၊- သူတို့သည် ထိုစကားကိုနားမလည်
၅၁ ကြ။- ထိုနောက်၊ ယေရှုသည် မိဘတို့နှင့်အတူ
သွား သဖြင့် နာဇရက် မြို့ သို့ ရောက် ၍၊ သူတို့
စကား ကို နား ထောင် လျက် နေ လေ ၏။ ထိုအ
ကြောင်းအရာအလုံးစုံတို့ကိုမယ်တော်သည်နှလုံး
၅၂ လုံးထဲ၌မှတ်ကျုံးလေ၏။-ယေရှုသည်ထည်းအ
စည်အတိုင်းကြီး၍ ပညာတိုးပွားလျှက်၊ ဘုရား
သခင်ရှေ့၊လူတို့ရှေ့မှာမျက်နှာရတော်မူ၏။

## ၃

၁ ကဲသာဘုရင် တိဗေရိ နန်းစံတဆယ်ငါးနှစ်
တွင်၊ယုဒပြည်၌ ပုန္တိပိလတ်သည် မြို့ဝန်အရာ၊
ဂါလိလဲပြည်၌ဟေရုဒ်သည်စော်ဘွားအရာ၊ ဣ
တုရဲပြည်နှင့် တရာခေါနိတ်ပြည်၌ ထေရုဒ်ညီ
ဖိလိပ္ပုသည် စော်ဘွားအရာ၊ အဘိလင်ပြည်၌
၂ လုသာနိသည်စော်ဘွားအရာ၊- အန္နနှင့်ကယာ
ဖတို့သည်ယဇ်ပုရောဟိတ်မင်းအရာ၊ အသီးအ
သီး ရှိကြသော အခါ၊ တော၌ ရှိသော ဇာခရိ၏
သား ယောဟန်သည် ဘုရား သခင်၏ ဗျာဒိတ်
၃-၆ တော်ကိုခံရ၏။-ပရောဖက်ဟေရှာယ၏ကျမ်း
စာ၌ ထာသည်ကား၊ တော၌ ထစ်ကြော်သော
သူ၏အသံမှာ၊ထာဝရဘုရား ကြွတော်မူရာလမ်း
ကိုပြင်ကြလော့၊လမ်းခရီးတော်ကိုဖြောင့်စေကြ
လော့၊ ချိုင့်ဝှမ်းရာရှိသမျှတို့ကိုဖို့ရမည်။ တောင်
ကြီးတောင်ငယ်ရှိသမျှတို့ကိုဖြို့ရမည်။ ကောက်
သောလမ်းများကိုဖြောင့်စေရမည်။ကြမ်းတမ်း



သောထမ်းများကို ထည်း သုတ်သင် ဖွင် သင်ရ
မည်၊ လူအပေါင်းတို့သည်ဘုရားသခင်၏ကယ်
တင်တော်မူခြင်းအကြောင်းကိုမြင်ရကြလတ္တံ့ဟု
လာသည်နှင့်အညီ၊ ယောဟန်သည် ယော်ဒန်
မြစ်နားပတ်ဝန်းကျင်အပြားလှည့်လည်၍၊ အပြစ်လွှတ်
ခြင်းအမှုအလို့ငှါ နောင်တနှင့် စပ်ဆိုင်သောနှစ်
ခြင်းတရားကိုဟောလေ၏။
၇ ထိုအခါနှစ်ခြင်းကိုခံအံ့သောငှါလာကြသော
လူအစုအဝေးတို့အား ဟောပြောသော ပြော
သည်ကား၊ အချင်းမြွေဆိုးအမျိုးတို့၊ ရောက်လု
သော ဒေါသ ဒဏ်မှ ပြေးသွား မိမ့် သော ငှါ အ
ဘယ်သူသည် သင်တို့ကိုသတိပေးသနည်း။-
၈ နောင်တရခြင်းနှင့် ထိုက်တန် သော အကျင့် ကို
ကျင့် ကြလော့၊ အာဗြဟံ သည် ငါတို့အဖ ဖြစ်
သည်ဟူ၍၊ စိတ်ထဲ၌မထောင်းမေ့ကြနှင့်၊ ဘုရား
သခင်သည် ဤကျောက်ခဲတို့မှ အာဗြဟံသားတို့
ကိုထုတ်ဖော်ပန်ဆင်းနိုင်တော်မူသည်ဟု၊ ငါအ
၉ မှန် ဆို၏၊- သစ်ပင် အမြစ် နား မှာ ပုဆိန် ထား
လျက်ရှိသည်ဖြစ်၍၊ ကောင်းသော အသီးမသီး
သော အပင်ရှိသမျှတို့ ကို ခုတ်လှည်း၍ မီးထဲသို့
ချလိုက်ရသည်ဟုဟောပြောလေ၏။
၁၀ လူအစုအဝေးကလည်း၊ သို့ဖြစ်လျှင်၊ အကျွန်ုပ်
တို့သည် အဘယ်သို့ ပြုရပါမည်နည်းဟု မေး
၁၁ လျှောက်ကြသော်၊- ယောဟန်က၊ အင်္ကျီ နှစ်
ထည် ရှိသော သူ သည် အင်္ကျီ မရှိသော သူအား
မျှဝေ၊ စားစရာရှိသော သူသည်လည်း ထိုနည်း
၁၂ တူပြုစေဟုပြန်ပြော၏။- အခွန်ခံသူတို့သည် နှစ်
ခြင်းကိုခံခြင်းငှါ လာ၍၊ အရှင်ဘုရား၊ အကျွန်ုပ်
တို့သည် အဘယ်သို့ ပြုရပါမည်နည်းဟု မေး
၁၃ လျှောက်ကြလျှင်၊- သင်တို့သခင်သည်ခွဲဝေစီမံ
သည်ထက်သာ၍မခွဲမခံကြနှင့်ဟုပြန်ပြော၏။-
၁၄ စစ်သူရဲတို့ကလည်း၊ အကျွန်ုပ်တို့သည်အဘယ်
သို့ ပြုရပါမည်နည်းဟု မေးလျှောက် ကြလျှင်၊
သင်တို့သည်အဘယ်သူကိုမျှအနိုင်အထက်မပြု
ကြနှင့်၊ အဘယ်သူကိုမျှမလျှပ်ကြနှင့်၊ ကိုယ်ရ
သောအခနှင့်ရောင့်ရဲကြလော့ဟုပြန်ပြော၏။
၁၅ လူများတို့သည်မျှော်လင့်၍၊ ယောဟန်သည်
ခရစ်တော်မှန်သည် မမှန်သည်ကို၊ နှစ်လုံးထဲ
၁၆ မှာတွေးတောဆင်ခြင်ကြစဉ်၊-ယောဟန်သည်
လူ အပေါင်းတို့အား ပြန် ပြော သည် ကား၊ ငါ
သည်သင်တို့အားရေ၌နှစ်ခြင်းကိုပေး၏။ ငါထက်
တတ်စွမ်းနိုင်သောသူသည်ကြွလာသေး၏။ ထို
သူ၏ခြေနင်းတော် ကြိုး ကို မျှ ဖြည်ခြင်းငှါ ငါမ
ထိုက်၊ ထိုသူသည်သန့်ရှင်းသော ဝိညာဉ်တော်၌
၁၇ ၎င်း၊ မီး၌၎င်း၊ သင်တို့ကို နှစ်တော်မူမည်။- ထက်
တော်တွင် စံကောပါလျက်၊ မိမိ ကောက်နယ်တ
လင်းကိုရှင်းလင်းစေသဖြင့်၊ ဂျုံစပါးကိုကား ကို
ဥစ္စာ၌ သိမ်းသွင်းထား၍၊ အဖျင်းကိုကား၊ မငြိမ်း
နိုင်သောမီးနှင့် ရှို့တော်မူလတ္တံ့ဟု ပြောဆို၏။-
၁၈ အခြားသော စကားများနှင့် ဆုံးမသွန်သင်၍
ဧဝံဂေလိတရားကို လူများတို့အား ဟောပြော
လေ၏။
၁၉ ထိုနောက်၊ စော်ဘွားဟေရုဒ်သည်မိမိညီ၏ခင်
ပွန်းဟေရောဒိအကြောင်းမှစ၍၊ မိမိပြုသောဒုစ
ရိုက်အပြစ်ရှိသမျှတို့ကို ယောဟန်သည် ဖော်ပြ
၂၀ ဆုံးမသောကြောင့်၊- ဟေရုဒ်သည်အရင်အပြစ်ရှိ
သမျှတို့အပေါ်မှာအပြစ်သစ်ကိုထပ်ထောင်း၍၊
ယောဟန်ကိုထောင်ထဲမှာလှောင်ထား၏။
၂၁ လူအပေါင်းတို့သည်နှစ်ခြင်းကိုခံကြသောအ
ခါ၊ ယေရှုသည်လည်းနှစ်ခြင်းကို ခံတော်မူ၍ ဆု
တောင်းစဉ်တွင်၊ ကောင်းကင် ဖွင့်လှစ်သဖြင့်၊-
၂၂ သန့်ရှင်းသော ဝိညာဉ်တော်သည်၊ ခိုငှက်ကဲ့
သို့ ကိုယ်ထင်ရှားလျက် ကိုယ်တော်အပေါ်၌
ဆင်းသက်တော်မူ၍၊ သင်ကား၊ ငါနှစ်သက်မြတ်
နိုးရာ၊ ငါ၏ချစ်သားပေတည်းဟု၊ ကောင်းကင်က
အသံတော်ဖြစ်လေ၏။
၂၃ ထိုအခါ ယေရှုသည် အနှစ်သုံးဆယ်ခန့်မျှ ရှိ
တော်မူ၏။ လူများအထင်အမှတ်အားဖြင့်ကိုယ်
တော်၏ အဘကား ယောသပ်တည်း။ ယောသပ်
၂၄ အဖ ဧလိ၊- ဧလိအဖ မဿတ်၊ မဿတ်အဖ လေ
ဝိ၊ လေဝိအဖ မေလခိ၊ မေလခိအဖ ယန္န၊ ယန္နအ
၂၅ ဖ ယောသပ်၊- ယောသပ်အဖ မတ္တသိ၊ မတ္တသိအ
ဖ အာမုတ်၊ အာမုတ်အဖ နာဟုံ၊ နာဟုံအဖ ဧသ
၂၆ လိ၊ ဧသလိအဖ နဂ္ဂဲ၊- နဂ္ဂဲအဖ မာအတ်၊ မာအတ်
အဖ မတ္တသိ၊ မတ္တသိအဖ ရှေမိ၊ ရှေမိအဖ ယော
သပ်၊ ယောသပ်အဖ ယုဒ၊ ယုဒအဖ ယောဟန္န၊-
၂၇ ယောဟန္နအဖ ရေသ၊ ရေသအဖ ဇေရုဗဗေလ၊
ဇေရုဗဗေလအဖ ရှာလသေလ၊ ရှာလသေလအ
၂၈ ဖ နေရိ၊ နေရိအဖ မေလခိ၊ မေလခိအဖ အဒ္ဒိ၊- အဒ္ဒိ
အဖ ကောသံ၊ ကောသံအဖ ဧလမောဒံ၊ ဧလမော
၂၉ ဒံအဖ ဧရ၊- ဧရအဖ ယောသေ၊ ယောသေအဖ ဧ
လျေဇာ၊ ဧလျေဇာအဖ ယောရိမ်၊ ယောရိမ်အဖ
၃၀ မဿတ်၊ မဿတ်အဖ လေဝိ၊- လေဝိအဖ ရှိမောင်
ရှိမောင်အဖ ယုဒ၊ ယုဒအဖ ယောသပ်၊ ယောသပ်

အဖဋယောနန်၊ ယောနန်အဖ ဧလျာကိမ်၊ ဧလျာ
၃၁ ကိမ်အဖမေလေ၊– မေလေအဖမဲနန်၊ မဲနန် အဖ
မတ္တသ၊ မတ္တသအဖနာသန်၊နာသန်အဖဒါဝိဒ်၊–
၃၂ ဒါဝိဒ် အဖယေရှဲ၊ ယေရှဲအဖ ဩဗက်၊ ဩဗက်
အဖဗောဇ၊ဗောဇအဖစာလမုန်၊ စာလမုန်အဖ
၃၃ နာရှုန်၊– နာရှုန်အဖအမိနဒပ်၊ အမိနဒပ်အဖအာ
ရံ၊အာရံအဖဟေဇရုံ၊ ဟေဇရုံအဖဖာရက်၊ဖာ
၃၄ ရက်အဖယုဒ၊– ယုဒအဖယာကုပ်၊ယာကုပ်အဖ
ဣဇာက်၊ဣဇာက်အဖအာဗြဟံ၊ အာဗြဟံအဖ
၃၅ တေရ၊တေရအဖနာခေါ်၊–နာခေါ်အဖစေရုတ်၊
စေရုတ်အဖရာဂေါ၊ ရာဂေါအဖဖာလက်၊ ဖာ
၃၆ လက်အဖဟေဗာ၊ဟေဗာအဖရှာလ၊– ရှာလအ
ဖကာဣနန်၊ ကာဣနန်အဖအာဖာဇဒ်၊ အာဖာ
ဇဒ်အဖရှေမ၊ ရှေမအဖနောဧ၊ နောဧအဖ လာ
၃၇ မက်၊– လာမက်အဖ မသုရှလ၊ မသုရှလအဖဧ
နောက်၊ ဧနောက်အဖယာရက်၊ ယာရက်အဖမ
ဟာလေလေလ၊ မဟာလေလေလ အဖ ကာဣ
နန်၊ ကာဣနန်အဖဧနုတ်၊ ဧနုတ်အဖရှေသ၊ရှေ
သအဖအာဒံ၊အာဒံအဖ ဘုရားသခင်ပေတည်း။

၄

၁ ယေရှုသည် သန့်ရှင်းသော ဝိညာဉ်တော်နှင့်
ပြည့်စုံလျက်၊ ယော်ဒန် မြစ်နားမှ ပြန် စည်တွင်
ဝိညာဉ်တော်သည်တောသို့ပို့ဆောင်တော်မူ၏။–
၂ အရက် လေးဆယ် ပတ်လုံး မာရ်နတ် ၏ စုံစမ်း
သွေးဆောင်ခြင်းကို ခံတော်မူ၏။ ထိုကာလပတ်
လုံး အစာအာဟာရကိုသုံးဆောင်တော်မမူ။ ထို
၃ ကာလ လွန်ပြီးမှ ဆွတ်သိပ်တော်မူ၏။– မာရ်နတ်
ကလည်း၊ ကိုယ်တော်သည်ဘုရားသခင်၏ သား
တော်မှန်လျှင်၊ ဤကျောက်ခဲကို မုန့်ဖြစ်စေခြင်း
ငှါ အမိန့်ရှိတော်မူပါဟု လျှောက်လေ၏။– ယေ
ရှုကလည်း၊ လူသည်မုန့်အားဖြင့်သာ အသက်
ကိုမွေးရမည်မဟုတ်။ဘုရားသခင်မိန့်တော်မူသ
မျှအားဖြင့်အသက်ကိုမွေးရမည်ကျမ်းစာ၌လာ
သည်ဟုပြန်ပြောတော်မူ၏။
တဖန် မာရ်နတ်သည် ယေရှုကိုမြင့်လှသော
တောင်ပေါ်သို့ဆောင်သွား၍၊ ဤလောက၌ရှိသ
မျှသောတိုင်းနိုင်ငံတို့ကို တခဏချင်းတွင်ပြည့်နှ
၆ ၍၊– ဤဘုန်းတန်ခိုး အာနုတော်ရှိသမျှကို ငါ၌
အပ်ခဲ့ပြီ။ ငါသည် ပေး လိုသော သူ အား ပေးရ
၇ သည်ဖြစ်၍ ကိုယ်တော်အားပေးပါမည်။– ငါ့ကို
ကိုးကွယ်လျှင်၊ ဤအလုံးစုံတို့သည် ကိုယ်တော်
၈ ၏ဥစ္စာဖြစ်လိမ့်မည်ဟုလျှောက်လေ၏။– ယေရှု
ကလည်း၊ အချင်းစာတန်၊ ငါ့နောက်သို့ဆုတ်လော့။
သင်၏ဘုရားသခင်ထာဝရဘုရားကို ကိုးကွယ်ရ
မည်။ ထိုဘုရားသခင်ကိုသာဝတ်ပြုရမည်ကျမ်း
စာလာသည်ဟုပြန်ပြောတော်မူ၏။
တဖန်မာရ်နတ်သည် ယေရှုကို ယေရုရှလင်
မြို့သို့ဆောင်သွား၍၊ ဗိမာန်တော်၏ အထွဋ်၌
၁၀ တင်ထားပြီးလျှင်၊– ကျမ်းစာလာသည် ကား၊
သင့်ကို စောင့်ရှောက်စေခြင်း ငှါ ကောင်းကင်
တမန် တို့အား သင့်အဖို့ မှာထားတော်မူသည်
၁၁ ဖြစ်၍၊– သင်၏ခြေကိုကျောက်နှင့်မထိမခိုက်စေ
ခြင်းငှါ၊ သူတို့သည် သင့်ကိုလက်နှင့် မစချီပင့်
ကြလိမ့်မည်ဟုလာ၏။ ထိုကြောင့်၊ ကိုယ်တော်
သည် ဘုရားသခင်၏ သားတော်မှန်လျှင်၊ ဤအ
ထွဋ်မှ ကိုယ်ကိုအောက်သို့ချလိုက်တော်မူပါဟု
၁၂ လျှောက်လေ၏။– ယေရှုကလည်း၊ သင်၏ဘုရား
သခင် ထာဝရဘုရားကို သင်သည် အစုံအစမ်း
မပြုရဟု၊ ကျမ်းစကားရှိသည်ဟုပြန်ပြောတော်
၁၃ မူ၏။– ထိုသို့ မာရ်နတ်သည် စုံစမ်း သွေးဆောင်
ခြင်း အမှုအလုံးစုံကို အကုန်အစင် ပြုပြီးလျှင်၊
အထံ တော်မှ ထွက်သွား၍ ကာလ အတန် အရှာ
နေလေ၏။
၁၄ ယေရှုသည်ဝိညာဉ်တော်တန်ခိုးနှင့် ဂါလိလဲ
ပြည်သို့ပြန်၍၊ သိတင်းတော်သည်ပတ်ဝန်းကျင်
အရပ်တို့၌အနှံ့အပြားကျော်စောလေ၏။ တရား
၁၅ ဇရပ်တို့၌ ဆုံးမဩဝါဒ ပေး တော်မူ၍၊– လူအ
ပေါင်း တို့သည် ကိုယ် တော်ကို ချီး မွမ်းကြ၏။–
၁၆ ကြီးပွားတော်မူရာ နာဇရက် မြို့သို့ ရောက် ပြန်
လျှင်၊ထုံးစံတော်ရှိသည်အတိုင်းဥပုသ်နေ့၌တ
ရားဇရပ်သို့ဝင်၍ ကျမ်းစာကို ဖတ်ရွတ်ခြင်းငှါ
၁၇ ထတော်မူ၏။– ဇရပ်စောင့်သည်ပရောဖက်ဟေ
ရှာယ၏ ကျမ်းစာကို ပေးသည်ဖြစ်၍၊ ကျမ်းစာ
ကိုဖွင့်တော်မူလျှင်တွေ့သောအချက်စကားဟူမူ
၁၈ ကား၊– ထာဝရဘုရား၏ဝိညာဉ်တော်သည်ငါ့အ
၁၉ ပေါ်၌တည်တော်မူ၏။–အကြောင်းမူကား၊ဆင်း
ရဲသားတို့ အား ဝမ်းမြောက် စရာ သိတင်း ကို
ကြားပြောစေခြင်းငှါ၊ငါ့ကိုဘိသိတ်ပေးတော်မူ
ပြီ။ ကြေမွသောသူတို့၏အနာကို ပျောက်စေခြင်း
ငှါလည်း၊ ဖမ်းသွား ချုပ်ထားလျက် ရှိသောသူတို့
အားလွှတ်ခြင်းအကြောင်းနှင့်၊မျက်စိကန်းသော
သူတို့အား မျက်စိမြင်ပြန်ခြင်းအကြောင်းကိုပြ
စေခြင်းငှါလည်း၊ညှဉ်းဆဲခံရသောသူတို့ကို ကယ်
မစေခြင်းငှါလည်း၊ထာဝရဘုရား၏မင်္ဂလာနှစ်ကာ

ထကို ကြားပြော စေခြင်းငှါငှါ၊ ငကိုစေလွှတ်
၂၀ တော်မူပြီဟုလာသတည်း။- ကျမ်းစာကိုလိပ်၍
ဇရပ်စေခွင့်အားပေးပြီးမှထိုင်တော်မူ၏၊ဇရပ်၌
ရှိသော သူအပေါင်းတို့သည် ကိုယ်တော်ကို စေ့
စေ့ကြည့်လျက်နေကြ၏၊
၂၁ ထေရှုကထည်း၊ ယနေ့ပင် ဤကျမ်းစာစွက်
သည် သင်တို့ကြားသည်အတိုင်း ပြည့်စုံလေပြီ
၂၂ ဟုမိန့်တော်မူ၏၊-ထိုသူအပေါင်းတို့သည်ကိုယ်
တော်ကိုဝန်ခံ၍၊ တင့်တယ်လျောက်ပတ်သော
နှုတ်ထွက်စကားကို ထံ့ဩြခရှိုးမွမ်းလျက်၊ ဤ
သူသည်ယောသပ်၏သားမဟုတ်တုံလောဟုဆို
၂၃ ကြ၏၊- ယေရှုကထည်း၊အကယ်၍သင်တို့သည်
ဝုံပမာကို ဆောင်လျက်၊ အရှင်းဆေးသမား၊
ကိုယ်အနာကိုငြိမ်းစေလော့၊ ငါတို့သည်သိတင်း
ကြားသည်အတိုင်း၊ဆင်သည်ကပေရနောင်မြို့၌
ပြုသမျှသောအမှုအရာတို့ကို ကိုယ်နေရင်းမြို့၌
ထည်းပြုပါဟု၍၊ ငအားပြောဆိုကြလိမ့်မည်း
၂၄ သို့သော်လည်း၊ ငါအမှန်ဆိုသည်ကား၊- အ
ထယ် ပရောဖက်မှာ မိမိနေရင်းမြို့၌ ရှုက်နှာမရ
၂၅ တတ်၊- ငါအမှန်ဆိုပြန်သည်ကား၊ ပရောဖက်
ဧလိယထက်ထက်၌ သုံးနှစ်နှင့် ခြောက်လပတ်
လုံးမိုဃ်းခေါင်၍၊ပြည်နိုင်ငံတရှောက်လုံးအစာ
အာဟာရ အလွန်ခေါင်းပါးခြင်းရှိသောအခါ၊
ဣသရေလ အမျိုးဖြစ် သော မုဆိုးမ အများရှိ
၂၆ ကြ၏၊- သို့သော်ထည်း၊ထိုမုဆိုးမတယောက်ရှိ
ရာသို့မျှဧလိယကိုစေလွှတ်တော်မမူ၊ ဇိဒုန်ပြည်
ဇရဖတ်မြို့သူ ဖြစ်သော မုဆိုးမ တယောက် ရှိရာ
၂၇ သို့ စေလွှတ်တော်မူ၏၊- ပရောဖက်ဧလိရှဲလက်
ထက်တွင်ထည်း၊ဣသရေလအမျိုး၌နူနာစွဲသော
သူအများ ရှိကြ၏၊ သို့သော်ထည်း၊ နေမန်အ
မည်ရှိသော ရှုရိလူမှတပါး အဘယ်သူမျှ သန့်
၂၈ ရှင်းခြင်းသို့ မရောက်ဟု မိန့်တော်မူ၏၊- တရား
ဇရပ်၌ ရှိသော လူအပေါင်းတို့သည် ထိုစကား
တော်ကို ကြားသောအခါ ပြင်းစွာအမျက်ထွက်
၂၉ သည်နှင့်၊- ထ၍ ကိုယ်တော်ကို မြို့ပြင်သို့ နှင်
ထုတ်ပြီးလျှင်၊ ထိုမြို့တည်ရာ တောင်ထိပ်စွန်း
အငူမှစောက်ထိုးတွန်းချခြင်းငှါဆောင်သွားကြ
၃၀ ၏၊-ကိုယ်တော်သည်သူတို့အထယ်၌ ရှောင်၍
ကြွသွားတော်မူ၏၊
၃၁ ဂါလိလဲပြည်ကပေရနောင်မြို့သို့ရောက်လျှင်၊
၃၂ ဥပုသ်နေ့၌ဆုံးမဩဝါဒပေးတော်မူ၏၊-အာဏာ
နှင့်ဟောတော်မူသောကြောင့်ပရိသတ်တို့သည်
၃၃ ဒေသနာတော်ကို အထွန့်ထံ့ဩြကြ၏၊- ထို
တရားဇရပ်၌ ညစ်ညူးသော နတ်ဆိုးစွဲသောသူ
၃၄ တယောက်ရှိ၍၊-ကြော်နာဇရက်မြို့သားယေရှု၊
ကိုယ်တော်သည် အကျွန်ုပ်တို့နှင့်အဘယ်သို့ဆိုင်
သနည်း၊ အကျွန်ုပ်တို့ကိုဖျက်ဆီးခြင်းငှါလာသ
လော၊ကိုယ်တော်သည်အဘယ်သူဖြစ်သည်ကို
အကျွန်ုပ်သိပါ၏၊ ဘုရားသခင်၏သန့်ရှင်းတော်
မူသောသူ ဖြစ်ပါသည်ဟု ကြီးသော အသံနှင့်
၃၅ ထစ်ကြော်လေ၏၊- ယေရှုကလည်း၊တိတ်ဆိတ်
စွာနေလော့၊ ထိုသူ၏အထဲက ထွက်သွားလော့
ဟုဆုံးမတော်မူလျှင်၊ နတ်ဆိုးသည် ထိုသူကိုလူ
များအထယ်၌ လှည်းချ၍၊ ထေးဥပါတ် မပြုဘဲ
၃၆ ထွက်သွား၏၊- လူအပေါင်းတို့သည် မိန်းမော
တွေဝေ၍၊ဤစကားသည်အဘယ်သို့သောစကား
နည်း၊ ညစ်ညူးသောနတ်တို့ကို အာဏာတန်ခိုး
နှင့်မှာထား၍၊ သူတို့သည် ထွက်သွားကြသည်
တကားဟု၊အချင်းချင်းဆွေးနွေးပြောဆိုကြ၏၊-
၃၇ သိတင်းတော်သည်လည်း ပတ်ဝန်းကျင်အရပ်
တို့၌ နှံ့ပြားကျော်စောလေ၏၊
၃၈ တရားဇရပ်မှထွက်ပြီးလျှင်ရှိမုန်၏အိမ်သို့ကြွ
တော်မူ၏၊ရှိမုန်၏ယောက္ခမသည်ပြင်းစွာသော
ဖျားနာစွဲသည်ဖြစ်၍၊သူအတွက်ကိုယ်တော်ကို
၃၉ တောင်းလျှောက်ကြ၏၊-ကိုယ်တော်သည်ထိုမိန်း
မ၏အနားမှာရပ်၍ဖျားနာကိုဆုံးမတော်မူလျှင်၊သူ
သည် အဖျားပျောက်သဖြင့် ချက်ချင်းထ၍ ညှဉ့်
သည်ဝတ်ကိုပြုလေ၏၊
၄၀ နေဝင်သောအခါ အမျိုးမျိုးသော အနာရော
ဂါစွဲသော သူတို့၏ အဆွေခင်ပွန်းအပေါင်းတို့
သည် ထိုလူနာတို့ကို အထံတော်သို့ ဆောင်ခဲ့၍၊
ကိုယ်တော်သည် ထိုလူနာ အသီးအသီး တို့အ
ပေါ်၌လက်တော်ကိုတင်သဖြင့်အနာရောဂါကို
၄၁ ငြိမ်းစေတော်မူ၏၊- နတ်ဆိုးတို့လည်း၊ ကိုယ်
တော်သည် ခရစ်တော်တည်းဟူသော ဘုရား
သခင်၏ သားတော် ဖြစ်တော်မူ၏ဟု ထစ်ကြော်
လျက်၊ လူများမှ ထွက်သွားကြ၏၊ ကိုယ်တော်
သည် ခရစ်တော် ဖြစ်ကြောင်းကို သူတို့ သိကြ
သောကြောင့်၊ စကားတခွန်းကိုမျှမပြောစေခြင်း
ငှါမြစ်တားတော်မူ၏၊
၄၂ မိုဃ်းထင်းသောအခါ တောအရပ်သို့ ထွက်
ကြွတော်မူ၍၊လူများတို့သည်ကိုယ်တော်ကိုရှာ
ကြ၏၊ အထံတော်သို့ရောက်လျှင်၊ မိမိတို့နေရာမှ
ထွက်ကြွတော် မမူမည်အကြောင်း ဆီးတားကြ

၄၃ ၏။– ငါ့ထံတော်ကထည့်၏၊ ဘုရားသခင်၏နိုင်ငံ
တော်နှင့် ဆိုင်သော ဧဝံဂေလိတရားကို အခြား
၄၄ သောမြို့ရွာတို့၌ ငါဟောပြောရမည်။– ထိုသို့အ
ထို့ငှါ ငါကိုစေလွှတ်တော်မူ ရှိသည်ဟု မိန့်တော်မူ
၍၊ ဂါလိလဲ ပြည်မှာ တရားဇရပ် တို့၌ တရား
ဟောပြောလျက်နေတော်မူ၏။

၅

၁ တစ်ရံရောအခါ ဂနေသရက် အိုင်နားမှာ ရပ်
တော်မူ၍၊ လူများတို့သည် ဘုရားသခင်၏နှုတ်
ကပတ်တရားကိုနားထောင်ခြင်းငှါ ကိုယ်တော်
အနီးသို့တိုးဝင်ကြစဉ်တွင်၊ကမ်းနားမှာဆိုက်
၂ သော လှေနှစ်စင်းကို မြင်တော်မူ၏။– တံငါ တို့
သည် လှေထဲက ထွက်၍ ပိုက်ကွန် တို့ကို ဆေး
၃ လျှော်လျက်နေကြ၏။–ထိုလှေတို့တွင်ရှိမုန်၏လှေ
ထဲသို့ဝင်တော်မူပြီးလျှင်၊လှေကိုကမ်းနားမှာအ
နည်းငယ်ခွါ၍ခွင့်စေခြင်းငှါရှိမုန်ကိုအခွင့်တောင်း
တော်မူ၏။ ထိုလှေပေါ်မှာထိုင်လျက်၊ လူများတို့
ကိုဆုံးမြွက်ဩဝါဒပေးတော်မူ၏။
၄ စကားတော်ပြတ်သောအခါ၊ရေနက်ရာအရပ်
သို့လှော်ဦးလော့။ပိုက်ကွန်ကိုချ၍ငါးကိုဖမ်းစမ်း
၅ လော့ဟု၊ ရှိမုန်အား မိန့် တော် မူ ၏။– ရှိမုန် က
ထည့်၏၊ သခင်၊ အကျွန်ုပ်တို့သည် တညည့် ထိုး
ကြိုးစားသော်လည်း တကောင်ကိုမျှ မရပါ။ သို့
သော်လည်း အမိန့်တော်ရှိလျှင်၊ပိုက်ကွန်ကိုချပါမည်
၆ ဟုလျှောက်လေ၏။–ထိုသို့ချကြပြီးလျှင်၊အလွန်
များစွာသော ငါးတို့ကို ဖမ်းမိသဖြင့် ပိုက်ကွန်
၇ သည်စုတ်ပြတ်စရှိ၏။– အခြားသော လှေတစင်း
၌ရှိသောအပေါင်းအဖော်တို့သည်လာ၍၊ ကူညီ
စေခြင်းငှါ သူတို့ကို အမှတ်ပေး သဖြင့်၊ သူတို့
သည်လာ၍လှေနှစ်စင်းနစ်လုမတတ်ငါးနှင့် ပြည့်
၈ စေကြ၏။–ရှိမုန်ပေတရုသည်မြင်လျှင်၊ ယေရှု၏
ဒူးဆစ် တော် ကို ဦးတိုက် ၍၊ သခင်၊ အကျွန်ုပ်
သည်အပြစ်များသောသူဖြစ်ပါ၏။ အကျွန်ုပ်ထံ
၉ မှ ကြွ သွားတော် မူပါဟု လျှောက် လေ၏။– အ
ကြောင်းမူကား၊ ဤသို့ လျှောက်သနည်းဟူမူကား၊
ဖမ်းမိသောငါးများကိုတွေ့သဖြင့်၊ရှိမုန်နှင့်
သူ၏အပေါင်းအဖော်၊ ဇေဗေဒဲ၏သားယာကုပ်
နှင့် ယောဟန်မှစ၍ရှိမုန်နှင့်ပါသမျှသောသူတို့
၁၀ သည့် မိန်းမောတွေဝေခြင်းရှိကြ၏။– ယေရှုက
ထည့်၏၊ကြောက်ရွံ့ခြင်းမရှိနှင့်၊သင်သည်ယခုမှ
စ၍ လူတို့ကိုဖမ်းမိသော သူဖြစ်လိမ့်မည်ဟု မိန့်
၁၁ တော်မူ၏။– ကမ်းနားမှာလှေကိုဆိုက်ပြီးလျှင်၊
ထိုသူတို့သည် ရှိသမျှ တို့ကို စွန့် ပြစ်၍ နောက်
တော်သို့လိုက်ကြ၏။
၁၂ ကိုယ်တော်သည်မြို့တမြို့၌ ရှိတော်မူစဉ်၊တ
ကိုယ်လုံးနူနာစွဲသောသူတယောက်သည် ကိုယ်
တော်ကို မြင်လျှင်ပြပ်ဝပ်၍၊ သခင်၊ အလိုတော်
ရှိလျှင်ကျွန်တော်ကို သန့်ရှင်းစေနိုင်တော်မူသည်
၁၃ ဟုတောင်းပန်လေ၏။–ယေရှုကထည့်၏၊ငါအလို
ရှိ၏။ သန့်ရှင်းခြင်းသို့ ရောက်စေဟု မိန့်တော်မူ
လျက်၊ လက်တော်ကိုဆန့်၍ထိုသူကို တို့တော်မူ
၁၄ ၏။ထိုခဏချင်းတွင် နူနာပျောက်လေ၏။– ယေရှု
ကထည့်၏၊ဤအကြောင်းကို အဘယ်သူအားမျှမ
ပြောနှင့်။ လေဝိပရောဟိတ် ထံ သို့ သွား၍ ကိုယ်
ကိုပြလော့။လူတပါးတို့၌သက်သေဖြစ်စေခြင်းငှါ၊
သန့်ရှင်းခြင်းသို့ ရောက်သည်အတွက်မောရှေမိ
ရင် မှာထားသော ပူဇော် သကာကို ဆက်လော့
၁၅ ဟုမိန့်တော်မူ၏။–သို့သော်လည်း၊သိတင်းတော်
သည်သာ၍ကျော်စောသဖြင့်၊ များစွာသော လူ
အပေါင်းတို့သည် တရား နာလိုသောငှါလည်း၊ အ
နာရောဂါ ငြိမ်း စေခြင်း ကျေးဇူး တော်ကို ခံလို
၁၆ သောငှါလည်း စုဝေးလျက် ရှိကြ၏။– ကိုယ်တော်
သည် တော အရပ် သို့ ကြွ ၍ ဆု တောင်း လျှ ရှိ
တော်မူ၏။
၁၇ တနေ့သ၌ ကိုယ်တော်သည် ဆုံးမဩဝါဒပေး
တော်မူစဉ်၊ ယေရုရှလင်မြို့မှစသော လူခပြည့်၊
ဂါလိလဲပြည်မြို့ရွာများတို့ကရောက်လာသောဖာ
ရိရှဲတို့နှင့် ပညာရှင်းဆရာ တို့သည် ထိုင်လျက်
ရှိကြ၍၊ အနာရောဂါကို ငြိမ်းစေခြင်းငှါ သခင်
၁၈ ဘုရား၏တန်ခိုးတော်သည်ထင်ရှား၏။–ထိုအခါ
ထက်ခြေသေသောသူတယောက်ကို အိပ်ရာနှင့်
တကွအထံတော်သို့ဆောင်ခဲ့၍၊ရှေ့တော်၌သွင်း
၁၉ ထား ခြင်းငှါ ရှာကြံကြ ၏။– လူ စုဝေး လျက် ရှိ
သောကြောင့်ဝင်စရာလမ်းကိုမတွေ့သဖြင့်၊အိမ်
မိုးပေါ်သို့တက်၍ အုတ်မိုးကိုဖောက်ပြီးမှ လူနာ
ကိုအိပ်ရာနှင့်တကွလူများအလယ်၊ယေရှု၏ရှေ့
၂၀ တော်သို့လျှော့ချကြ၏။– ကိုယ်တော်သည်ထိုသူ
တို့၏ ယုံကြည်ခြင်းကို မြင် လျှင် လူနာ အား အ
ဆွေလူ၊ သင်၏အပြစ်ကို လွှတ်စေပြီဟု မိန့်တော်
၂၁ မူ၏။– ကျမ်းပြုဆရာနှင့်ဖာရိရှဲတို့က၊ ဘုရားကို
လွန်ကျူး၍ ပြော သော ဤသူကား အဘယ်သူ
နည်း။ ဘုရားသခင်မှတပါး အဘယ်သူသည်အ
၂၂ ပြစ်ကိုလွှတ်နိုင်သနည်းဟု ထင်မှတ်ကြ၏။–ယေ
ရှုသည် ထို သူတို့၏ ထင်မှတ်ခြင်းကို သိတော်မူ

လျှင်၊ သင်ကို မိတ်ဆွေ၊ အသင်၏ အပြစ်ကို လွှတ်တော်မူပြီဟု မိန့်တော်မူ၏။
၂၁ ကျမ်းပြုဆရာနှင့် ဖာရိရှဲတို့က၊ ဘုရားသခင်ကို ပြစ်မှားသော ဤသူကား အဘယ်သူနည်း။ ဘုရားသခင်တပါးတည်းမှတပါး၊ အဘယ်သူသည် အပြစ်ကို လွှတ်နိုင်သနည်းဟု ကြံစည်စ ပြုကြ၏။
၂၂ ယေရှုသည် သူတို့ကြံစည်ခြင်းကို သိတော်မူလျှင်၊ သင်တို့သည် စိတ်ထဲမှာ အဘယ်ကြောင့် ထင်
၂၃ မှတ်ကြသနည်း။- အဘယ်စကားကို သာ၍ ပြောလွယ်သနည်း။ သင်၏အပြစ်ကို လွှတ်ပြီဟု ပြောလွယ်သလော၊ သင်ထ၍ လှမ်းသွား
၂၄ လော့ဟုပြောလွယ်သလော၊- လူသားသည် မြေကြီးပေါ်မှာ အပြစ်လွှတ်နိုင်သည်ကို သင်တို့သိစေခြင်းငှါ၊ ထလော့၊ ကိုယ်အိပ်ရာကို ဆောင်၍ ကိုယ်အိမ်သို့သွားလော့၊ သင့်အား ငါဆိုသည်ဟု၊ ငြိမ်ခြင်းသောသူအား မိန့်တော်မူ၏။-
၂၅ ထိုသူသည်လည်း လူများရှေ့မှာ ချက်ချင်း ထ၍ အိပ်ရာကို ဆောင်လျက်၊ ဘုရားသခင်၏ ဂုဏ်တော်ကို ချီးမွမ်းလျက်၊ မိမိ အိမ်သို့ သွားလေ
၂၆ ၏။- ထိုသူအပေါင်းတို့သည် မိန်းမောတွေဝေ၍ ကြောက်ရွံ့ခြင်း ကြီးသည်နှင့်၊ ငါတို့သည် အံ့ဩဘွယ်သော အမှုအရာကို ယနေ့ မြင်ခဲ့ပြီဟု ပြောဆို၍၊ ဘုရားသခင်၏ ဂုဏ်တော်ကို ချီးမွမ်းကြ၏၊
၂၇ ထိုနောက်၊ ကိုယ်တော်သည် ထွက်ကြွ၍၊ လေဝိအမည်ရှိသော အခွန်ခံသူသည် အခွန်ခံရာထဲ၌ ထိုင်နေသည်ကိုမြင်သော်၊ ငါ့နောက်သို့ လိုက်
၂၈ လော့ဟုမိန့်တော်မူ၏၊- ထိုသူသည်လည်း ရှိသမျှတို့ကိုစွန့်ပြစ်လျက်ထ၍နောက်တော်သို့လိုက်
၂၉ လေ၏၊- ထိုနောက်မှလေဝိသည် ကိုယ်တော်အဖို့အလိုငှါ မိမိအိမ်၌ ကြီးစွာသောပွဲကိုခံ၍၊ အခွန်ခံသော သူများနှင့် အခြားသောသူအပေါင်းတို့သည်၊ ကိုယ်တော် မှစသော တပည့်တော်တို့
၃၀ နှင့်တကွစားပွဲ၌ လျောင်းကြ၏၊- ကျမ်းပြုဆရာနှင့်ဖာရိရှဲတို့က၊ သင်တို့သည်အခွန်ခံသောသူ၊ ဆိုးသော သူတို့ နှင့် အတူ အဘယ်ကြောင့် စားသောက်ကြသနည်းဟု၊ တပည့်တော်တို့ကို ကဲ့
၃၁ ရဲ့အပြစ်တင်ကြ၏၊- ယေရှုကလည်း၊ ကျန်းမာသောသူတို့သည် ဆေးသမားကို အလိုမရှိကြ၊
၃၂ နာသော သူတို့သာလျှင် အလိုရှိကြ၏၊- ဖြောင့်မတ်သော သူတို့ကို နောင်တသို့ ခေါ်ခြင်းငှါ ငါလာသည်မဟုတ်၊ ဆိုးသောသူတို့ကိုခေါ်ခြင်းငှါ ငါလာသတည်းဟုမိန့်တော်မူ၏၊
၃၃ လူအချို့တို့က၊ ယောဟန်၏တပည့်တို့နှင့် ဖာရိရှဲတို့သည်အစာရှောင်ခြင်းနှင့်ဆုတောင်းခြင်းတို့ကိုအဖန်တလဲလဲပြုကြသည်ဖြစ်၍၊ အဘယ်ကြောင့် ကိုယ်တော်၏ တပည့်တို့သည် စားသောက်လျက်နေကြပါသနည်းဟု လျှောက်ကြ
၃၄ ၏။-ကိုယ်တော်ကလည်း၊ မင်္ဂလာဆောင်လုလင်သည်မိမိအပေါင်းအဖော်တို့နှင့်အတူ ရှိစဉ်အ
၃၅ ခါသူတို့ကိုအစာရှောင်စေနိုင်သလော၊-မင်္ဂလာဆောင်လုလင်ကိုသူ၏အပေါင်းအဖော်တို့နှင့်ခွာ၍ ယူသွားသော အချိန်ကာလရောက်လိမ့်မည်၊ ထိုကာလ အခါသူတို့သည် အစာရှောင်ကြလိမ့်
၃၆ မည်၊- ဥပမာကား၊ အဝတ်ဟောင်းကိုအထည်သစ်နှင့်ဖာလေ့မရှိ၊ ထိုသို့ဖာလျှင်၊ အထည်သစ်သည် ဆွဲဆုတ်တတ်၏၊ ဖာသော အထည် သစ်သည် အဝတ်ဟောင်းနှင့် မသင့် မတင့် တတ်၊-
၃၇ ၎င်နည်း၊ ဟောင်းသော သားရေအိုး၌ အသစ်သော စပျစ်ရည်ကို ထည့်လေ့မရှိ၊ ထိုသို့ ထည့်လျှင်အသစ်သောစပျစ်ရည်သည်သားရေအိုးကိုဆုတ်ခွဲသဖြင့်၊စပျစ်ရည်သည်ယို၍ သားရေအိုး
၃၈ သည်းပျက်စီးတတ်၏၊- အသစ်သောစပျစ်ရည်ကိုအသစ်သော သားရေအိုး၌ထည့်ရသည်၊ ထို
၃၉ သို့ထည့်လျှင်၊နှစ်ပါးစလုံးမပျက်စီး၊- ဟောင်းသော စပျစ်ရည်ကို သောက် ပြီးသော သူသည်လည်း၊ အသစ်သောစပျစ်ရည်ကိုချက်ချင်းအလိုမရှိတတ်၊ဟောင်းသောစပျစ်ရည်သာ၍ကောင်းသည်ကိုသိ၏ဟုမိန့်တော်မူ၏၊

၆

၁ ဒုတိယကောဇက်ဥပုသ်နေ့၌ ကိုယ်တော်သည် ဂျုံစပါး လယ်ကွက် ထဲကို ရှောက်ကြွတော်မူလျှင်၊တပည့်တော်တို့သည် စပါးအသီးအနှံကို
၂ ဆွတ်၍၊လက်နှင့်ပွတ်နယ်လျက်စားကြ၏၊-ဖာရိရှဲအချို့တို့က၊ ဥပုသ်နေ့၌ မပြုအပ်သောအမှုကိုသင်တို့သည် အဘယ်ကြောင့် ပြုကြသနည်း
၃ ဟု ဆိုကြသော်၊- ယေရှုက၊ ဒါဝိဒ်သည် မိမိအ
၄ ဖော်တို့နှင့်တကွ ငတ်မွတ်သောအခါ၊- ဘုရားသခင်၏အိမ်တော်သို့ဝင်၍ ယဇ်ပုရောဟိတ်တို့မှတပါး အဘယ်သူမျှမစားအပ်သောရှေ့တော်မုန့်ကိုယူစား၍၊မိမိအဖော်တို့အားပေးသည်အကြောင်းကိုမျှသင်တို့သည်မဖတ်ဘူးသလော၊-
၅ ထိုမှတပါး၊ လူသားသည်ဥပုသ်နေ့ကိုပင် အစိုးရသည်ဟုမိန့်တော်မူ၏၊
၆ အခြားသော ဥပုသ်နေ့၌ ကိုယ်တော်သည်တရားဇရပ်သို့ဝင်၍ ဆုံးမဩဝါဒ ပေးတော်မူသည်တွင်၊ ထိုဇရပ်၌ လက်ျာ လက် ခြောက်သော သူတ
၇ ယောက်ရှိ၏၊- ဥပုသ်နေ့၌သူ၏ ရောဂါကိုငြိမ်းစေမည်မငြိမ်းစေမည်ကို၊ ကျမ်းပြုဆရာနှင့်ဖာရိရှဲတို့သည်ကိုယ်တော်၌ အပြစ်တင်ခွင့်ကို ရှာ
၈ ၍စောင့်ကြည့်ကြ၏၊- ကိုယ်တော်သည်သူတို့အကြံအစည်ကိုသိလျှင်၊လက်ခြောက်သောသူအား



၊ယ၊ ၈၅

ထလော့၊ အလယ်၌ မတ်တတ် နေလော့ဟု မိန့်
တော်မူသည် အတိုင်း၊ ထိုသူသည် ထ၍ မတ်
၉ တတ်နေ၏။- ယေရှုကလည်း၊ သင်တို့ကိုငါမေး
မည်။ ဥပုသ်နေ့၌ အဘယ်သို့ ပြု အပ် သနည်း။
ကျေးဇူးပြု အပ်သလော၊ သူအကျိုးကိုဖျက်ဆီး
အပ်သလော၊ အသက်ကို ကယ် အပ် သလော၊
သတ် အပ် သ လောဟု၊ ပရိသတ် တို့အားမေး
၁၀ တော်မူပြီးလျှင်၊-ထိုသူအပေါင်းတို့ကို ပတ်လည်
ကြည့်ရှုလျက်၊ သင်၏လက်ကိုဆန့်လော့ဟု၊ထို
သူအားမိန့်တော်မူ၍၊ သူသည် မိမိလက်ကိုဆန့်
လျှင်၊ ထိုလက်သည် လက်တဖက်ကဲ့သို့ ပကတိ
၁၁ ဖြစ်လေ၏။- ထို သူများတို့သည် ဒေါသ စိတ်နှင့်
ထစ်မူး၍၊ ယေရှုအား အဘယ်သို့ ပြုရအံ့နည်း
ဟု၊အချင်းချင်းဆွေးနွေးကြ၏။
၁၂ ထို နေ့ ရက် ကာ လ ၌ ကိုယ် တော် သည် ဆု
တောင်း ပဌနာပြုခြင်းငှါ တောင်ပေါ်သို့ ကြွ၍၊
ဘုရားသခင်အားဆုတောင်းပဌနာပြုလျက် တ
၁၃ ညဉ့်လုံးနေတော်မူ၏။- မိုဃ်းလင်းသောအခါ
၁၄ တပည့်တော်တို့ကို ခေါ်တော်မူ၍၊- ပေတရု အ
မည်သစ်ကို ရသောရှိမုန်နှင့်သူညီအန္ဒြေ၊ ယာ
ကုပ်နှင့် ယောဟန်၊ ဖိလိပ္ပုနှင့် ဗာသောလမဲ၊-
၁၅ မဿဲနှင့်သောမ၊ အာလဖဲ၏သား ယာကုပ်နှင့်
၁၆ ဇေလုပ်ဟုခေါ်ဝေါ်သောရှိမုန်၊- ယာကုပ်၏ညီ
ယုဒနှင့် ကိုယ် တော်ကို အပ်နှံသော ယုဒရှကာ
ရုတ်တည်းဟူသော တကျိပ် နှစ်ပါးတို့ကို ရွေး
ကောက်၍ တမန်တော်အမည်ဖြင့် သမုတ်တော်
မူ၏။
၁၇ ထိုသူတို့နှင့်တကွ ကိုယ်တော်သည်တောင်ပေါ်
ကဆင်းကြွ၍၊ မြေညီရာ အရပ်၌ရပ်တော်မူ၏။
တရားနာခြင်းငှါ၎င်း၊အနာရောဂါတို့ကိုငြိမ်းစေ
ခြင်းငှါ၎င်း၊ ယေရုရှလင်မြို့မှစ၍ ယုဒပြည်၊ ပင်
လယ်ကမ်းနားတုရုမြို့၊ဇိဒုန်မြို့၊အရပ်ရပ်တို့က
လာကြသော လူအစုအဝေး အပေါင်းတို့နှင့် တ
၁၈ ပည့်တော်အပေါင်းတို့သည် ရှိကြ၏။- ညစ်ညူး
သောနတ်ညှဉ်းဆဲသောသူတို့သည်လည်း လာ
၁၉ ၍ချမ်းသာရကြ၏။-ကိုယ်တော်အထဲကတန်ခိုး
ထွက်၍ လူအပေါင်းတို့ကို သက်သာ စေတော်မူ
သည်ဖြစ်၍၊ ပရိသတ်အပေါင်းတို့သည် ကိုယ်
တော်ကိုတို့ခြင်းငှါ ရှာကြံကြ၏။
၂၀ ထိုအခါကိုယ်တော်သည်မျှော်၍တပည့်တော်
တို့ကိုကြည့်ရှုတော်မူလျှင်၊ ဆင်းရဲသောသင်တို့
သည်မင်္ဂလာရှိကြ၏။ အကြောင်းမူကား၊ ဘုရား
သခင်၏နိုင်ငံတော်သည် သင်တို့၏ နိုင်ငံဖြစ်၏။-
၂၁ ယခုတွင် ငတ်မွတ်သောသင်တို့သည် မင်္ဂလာရှိ
ကြ၏။ အကြောင်းမူကား၊ သင်တို့သည် ဝပြော
ခြင်းသို့ရောက်ကြလတံ့။ ယခုတွင် ငိုကြွေးသော
သင်တို့သည်မင်္ဂလာရှိကြ၏။အကြောင်းမူကား၊
သင်တို့သည် ရယ်ကြလတံ့။ သူတပါးတို့သည်
၂၂ လူသားကြောင့်သင်တို့ကိုမုန်းသောအခါ၊-ပယ်
ရှားနှင်ထုတ်၍ ကဲ့ရဲ့ခြင်း၊ အသရေရှုတ်ချခြင်း
ကိုပြုသောအခါ၊ သင်တို့သည် မင်္ဂလာရှိကြ၏။-
၂၃ ထိုကာလ၌ ဝမ်းမြောက်ခြင်း ရှိကြလော့။ ရွှင်
မြူးသော စိတ် နှင့် ခုန်ကြ လော့။ အကြောင်း မူ
ကား၊ ကောင်းကင်ဘုံ၌ သင်တို့၏ အကျိုးသည်
ကြီးလှပေ၏။ သူတို့၏ ဘိုးဘေးများသည် ပရော
ဖက်တို့ကိုထိုသို့ပြုကြပြီ။
၂၄ တနည်းကား၊ ငွေရတတ်သော သင်တို့သည်
အမင်္ဂလာ ရှိကြ၏။ အကြောင်း မူကား၊ သင်တို့
၂၅ သည်မိမိသက်သာခြင်းကိုယခုခံရကြ၏။- ဝစွာ
စားရသော သင်တို့သည် အမင်္ဂလာရှိကြ၏။ အ
ကြောင်းမူကား၊ သင်တို့သည် ငတ်မွတ်ခြင်းသို့
ရောက်ရကြလတံ့။ ယခုရယ်တတ်သောသင်တို့
သည်အမင်္ဂလာရှိကြ၏။အကြောင်းမူကား၊သင်
၂၆ တို့သည် ညည်းတွားငိုကြွေးရကြလတံ့။- လူတို့
သည်သင်တို့ကိုချီးမွမ်းသောအခါ၊သင်တို့သည်
အမင်္ဂလာ ရှိကြ၏။ အကြောင်း မူကား၊ သူတို့၏
ဘိုးဘေးများသည် မိစ္ဆာပရောဖက်တို့ကို ထိုသို့
ပြုကြပြီ။
၂၇ စကားကို ကြားရသော သင်တို့အား ငါဆို
သည်ကား၊ သင်တို့၏ရန်သူတို့ကို ချစ်ကြလော့၊
သင်တို့ကို မုန်းသော သူတို့အား ကျေးဇူးပြုကြ
၂၈ လော့။- သင် တို့ ကို ကျိန် ဆဲ သော သူ တို့ အား
မေတ္တာပို့ကြလော့၊ သင်တို့ကို နှောင့်ရှက်သော
သူတို့အဖို့ဘုရားသခင်ကို ဆုတောင်းကြလော့။-
၂၉ သင်၏ ပါး တဖက်ကို ပုတ် သော သူအား ပါးတ
ဖက်ကို ပေး ဦးလော့၊ သင့်ဝတ်လုံကို သိမ်းယူ
သောသူအား သင့်အင်္ကျီကိုလည်းယူစေခြင်းငှါ
၃၀ အခွင့် ပေး ဦး လော့။- အကြင်သူသည် သင့်ကို
တောင်း၏၊ ထိုသူအား ပေးလော့၊ သင့်ဥစ္စာကို
၃၁ သိမ်းယူသောသူအား ပြန်၍မတောင်းနှင့်။-သင်
တို့သည်ကိုယ်၌သူတပါးပြုစေလိုသည်အတိုင်း
၃၂ သူတပါး၌ပြုကြလော့။- သင်တို့ကိုချစ်သောသူ
တို့အားသာချစ်တို့ပြုလျှင်၊အဘယ်ကျေးဇူးတင်
သနည်း။ ဆိုးသောသူတို့သည် ကိုယ်ကိုချစ်သော

၃၂ သူ့အိုအားချစ်တဲ့ပွဲကြသည်မထုတ်ထော၊-သင်
ထို့ကိုကျေးဇူးပြုသော သူ့ဘို အားသာ ကျေးဇူး
ပြု လျှင်၊ အ ဘယ် ကျေးဇူး တင် သနည်း၊ ဆိုး
သောသူတို့သည်၍မျှလောက်ပြုကြသဦမထုတ်
၃၃ လော့၊- သူတပါးအား ဥစ္စာချေးငှါးသောအခါ
ဆပ်ပေးလိမ့်မည်ဟု မျှော်လင့် လျက် ချေး ငှါး
လျှင်၊ အဘယ်ကျေးဇူးတင်သနည်း၊ ဆိုးသော
သူတို့သည် ကျေးဇူး ဆပ် ခြင်း ကို ခံလို၍၊ ဆိုး
သောသူချင်းတို့အား ချေးငှါးတတ်သည်မထုတ်
၃၄ လော၊-သင်တို့မူကား၊ရန်သူတို့ကိုချစ်ကြလော့၊
ကျေးဇူးပြုကြလော့၊ တစုံတခုကိုရမည်ဟုမျှော်
လင့်ခြင်းမရှိဘဲ ချေးငှါးကြလော့၊ ထိုသို့ပြုလျှင်
သင်တို့ အကျိုး ကြီးလိမ့်မည်၊ အမြင့် ဆုံးသော
၃၅ ဘုရား၏သားဖြစ်ကြလိမ့်မည်၊- ထိုဘုရားသည်
ကျေးဇူးမသိသောသူ၊ ဆိုးညစ်သောသဘောရှိ
သော သူ တို့ အား ကျေး ဇူး ပြု တော်မူ ၏၊ ထို
ကြောင့်၊ သင်တို့ အဖ သည် သနားခြင်းစိတ် ရှိ
တော်မူသည်နည်းတူ၊ သင်တို့သည်လည်းသနား
ခြင်းစိတ်ရှိကြလော့၊
၃၆ သူတပါး၏အမှု၌ စစ်ကြောဆုံးဖြတ်ခြင်းကိုမ
ပြုကြနှင့်၊ မပြုလျှင်၊ သင်တို့သည် စစ်ကြောဆုံး
ဖြတ်ခြင်းနှင့်ကင်းလွတ်ကြလိမ့်မည်၊ သူတပါး
ကို အပြစ် မစီရင်ကြနှင့်၊ မစီရင်လျှင်၊ သင်တို့
သည် အပြစ်စီရင်ခြင်းနှင့် ကင်း လွတ် ကြ လိမ့်
မည်၊ သူ့အပြစ်ကို လွှတ်ကြလော့၊ လွှတ်လျှင်၊
၃၇ ကိုယ်အပြစ်လွှတ်လိမ့်မည်၊-သူတပါးအားပေး
ကြလော့၊ ပေးလျှင်၊သူတပါးသည်သင်တို့အား
ပေးကြလိမ့်မည်၊ အမှန်ချင်ရုံမျှမက၊ သိပ်နှက်
လျက်၊ လှုပ်လျက်၊ လျှံလျက်ရှိခြင်းနှင့်သင်တို့
ရင်ခွင်၌ ပေးကြလိမ့်မည်၊ အကြောင်းမူကား၊
အကြင်မှုန်၊ တင်း၊ ပမာဏနှင့် သင် တို့ သည်
သူတပါးအားပေး၏၊ ထိုပမာဏအတိုင်း ကိုယ်
ခံရကြမည်၊
၃၈ ဥပမာကား၊လူကန်းသည်လူကန်းအားထမ်း
ကိုပြုနိုင်သလော၊နှစ်ဦးတို့သည် တွင်းထဲသို့ကျ
၃၉ လိမ့်မည်မထုတ်လော၊- တပည့် သည် ဆရာ
ထက်မသာ၊အကြီးသင်ပြီးသောတပည့်တိုင်းမိမိ
၄၀ ဆရာ ကဲ့သို့ ဖြစ်လိမ့်မည်၊- ကိုယ် မျက်စိ၌ ရှိ
သောတံကျင်ကိုမအောင်းမေ့ဘဲ၊ညီအစ်ကိုမျက်
စိ၌ရှိသောပြောင့်ငယ်ကိုအဘယ်ကြောင့် ကြည့်
၄၁ ရှုသနည်း၊- ကိုယ်မျက်စိ၌ ရှိသောတံကျင်ကို မ
မြင်မမှတ်ဘဲလျက်၊ ညီအစ်ကို၊ သင်၏မျက်စိ၌ရှိ
သောပြောင့်ငယ်ကိုထုတ်ပါရစေဟု၊ အဘယ်သို့
ညီအစ်ကိုအားဆိုရသနည်း၊ လျှို့ဝှက်သောသူ၊
ကိုယ်မျက်စိ၌ရှိသောတံကျင်ကို ရှေ့ဦးစွာထုတ်
လော့၊ နောက်မှညီအစ်ကိုမျက်စိ၌ရှိသောပြောင့်
ငယ်ကိုထုတ်ခြင်းငှါရှင်းလင်းစွာမြင်လိမ့်မည်၊-
၄၃ မကောင်းသောအသီးကို သီးသော အပင်ကား၊
ကောင်းသော အပင် မဟုတ်၊ ကောင်း သောအ
သီးကိုသီးသောအပင်ကား၊ မကောင်းသောအ
၄၄ ပင်မဟုတ်၊-အသီးကိုထောက်၍အပင်သဘော
ကို သိရ၏၊ ဆူးပင်၌ သင်္ဘော သဖန်းသီး ကို မ
ဆွတ်တတ်၊တောပြူ၌စပျစ်သီးကိုမဆွတ်တတ်၊-
၄၅ ကောင်းသောသူသည် ကောင်းသောမိမိစိတ်နှစ်
လုံး ဘဏ္ဍာတိုက်ထဲက ကောင်းသော အရာကို
ထုတ်ဖော်တတ်၏၊ မကောင်း သော လူသည် မ
ကောင်းသောမိမိစိတ်နှစ်လုံးဘဏ္ဍာတိုက်ထဲက
မကောင်းသော အရာကို ထုတ်ဖော်တတ်၏၊ အ
ကြောင်းမူကား၊ စိတ်နှစ်လုံးအပြည့် ရှိသည်အ
တိုင်း နှုတ်မြွက်တတ်၏၊
၄၆ ငါ့စကားကိုနားမထောင်ဘဲလျက်၊ငါ့ကို၊သခင်၊
၄၇ သခင်ဟု အဘယ်ကြောင့် ခေါ်ကြသနည်း၊- ငါ
ထံသို့လာ၍ငါ့စကားကိုကြားသည်အတိုင်း နား
ထောင်သောသူသည်အဘယ်သူနှင့် တူသနည်း၊
၄၈ ဟူမူကား၊- တိုက်ကို တည်သော အခါ နက်စွာ
တူး၍ ကျောက်ပေါ်မှာ တိုက်မြစ်ချသော သူနှင့်
တူ၏၊ မြစ်ရေထသဖြင့်ရေစီး၍ ထိုတိုက်ကိုမိုက်
ခတ်သောအခါ ကျောက်ပေါ်မှာ တည်လျက် ရှိ
၄၉ သောကြောင့်မလှုပ်နိုင်ရာ၊-ငါ့စကားကိုကြား၍
နား မထောင်သော သူမူကား၊ အရ အခံ မရှိဘဲ
မြေပေါ်မှာတိုက်ကိုတည်သောသူနှင့်တူ၏၊ ရေ
စီး၍ထိုတိုက်ကိုမိုက်ခတ်သောအခါ၊ ချက်ချင်း
ထဲ၍ အကုန်အစင်ပြို ပျက် လေသည်ဟု ဟော
တော်မူ၏၊

## ၇

၁ ထိုဒေသနာတော်ကိုယေရှုသည်ပရိသတ်တို့
အား အကုန်အစင် ဟော တော် မူပြီးမှ ကပေရ
၂ နောင်မြို့သို့ကြွဝင်တော်မူ၏၊- ထိုမြို့၌ တစ်မှူး၏
ကျွန်တယောက်သည် နာ၍သေခါနီးရှိ၏၊ သူ၏
၃ သခင်သည်သူကိုချစ်၍၊-ယေရှု၏သိတင်းတော်
ကိုကြားလျှင်၊ ယုဒအမျိုးအကြီးအကဲတို့ကို အ
ထံတော်သို့ စေလွှတ် သဖြင့်၊ ကိုယ် တော် သည်
ကြွ၍ ထိုကျွန်ကို ချမ်းသာ ပေး တော် မူမည်အ
၄ ကြောင်းတောင်းပန်လေ၏၊- ထိုသူတို့သည်ယေ

ရှုထံတော်သို့ရောက်လျှင်၊ ကျေးဇူးတော်ကို ခံ
၅ ခြင်းငှာသည်ခံထိုက်သောသူဖြစ်ပါ၏၊ ဤသူသည်
အကျွန်ုပ်တို့အမျိုးကို နှစ်သက်၍အကျွန်ုပ်တို့အ
မှီတရားဇရပ်ကို ဆောက်ပါပြီဟူ၍ ကြပ်ကြပ်
၆ တောင်းပန်ကြ၏။- ယေရှုသည် သူတို့နှင့် အတူ
ကြွတော်မူ၏။ တပ်မှူးအိမ်နှင့်မနီးမဝေးရောက်
တော်မူသောအခါ၊ တပ်မှူးသည် မိမိ အဆွေတို့
ကိုစေလွှတ်၍၊ သခင်၊ ကိုယ်ကိုပင်ပန်းစေတော်
မမူပါနှင့်။ အကျွန်ုပ်၏အိမ်မိုးအောက်သို့ကြွဝင်
တော်မူခြင်းကျေးဇူးတော်ကိုအကျွန်ုပ်မခံထိုက်
၇ ပါ။- ထိုအတူ၊ အကျွန်ုပ်သည်ကိုယ်တော်ထံသို့
ရောက်ထိုက်သောသူမဟုတ်သည်ကို အကျွန်ုပ်
ထင်ပါပြီ၊ အမိန့်တော်တခွန်းမြွက်လျှင်၊ အကျွန်ုပ်
၈ ၏ငယ်သားသည် ချမ်းသာရပါလိမ့်မည်။- ဥပ
မာကား၊ အကျွန်ုပ်သည် မင်းအောက်၌ ကျွန်ခံ
သောသူဖြစ်သော်လည်း၊ စစ်သူရဲများကို အုပ်
စိုး၍တဦးကို သွားလော့ဟုဆိုလျှင်သွားပါ၏၊ တ
ဦးကိုလာခဲ့ဟုခေါ်လျှင်လာပါ၏၊ ကျွန်ကိုထိုဦး
ဤအမှုကို လုပ်လော့ဟု ဆိုလျှင် လုပ်ပါ၏ ဟု၊
၉ တပ်မှူးလျှောက်စေ၏။-ထိုစကားကိုယေရှုသည်
ကြားတော်မူလျှင်၊ အံ့ဩခြင်းရှိ၍ နောက်
တော်၌လိုက်သောလူများကိုလှည့်ကြည့်လျက်၊
ငါ ဆိုသည်ကား၊ ဤမျှလောက်သော ယုံကြည်
ခြင်းကိုဣသရေလအမျိုး၌ပင်ငါမတွေ့ဘူးသေး
၁၀ ဟု မိန့်တော်မူ၏။- တပ်မှူးစေလွှတ်သော သူတို့
သည် အိမ်သို့ ပြန် ရောက်လျှင်၊ အနာရောဂါ စွဲ
သော ကျွန်သည် ကျန်းမာလျက်ရှိသည်ကိုတွေ့
ကြ၏။

၁၁ နက်ဖန်နေ့၌နာဣနမြို့သို့ကြွတော်မူ၍၊တပည့်
တော်များနှင့် လူအစုအဝေးအပေါင်းတို့သည်
၁၂ နောက်တော်သို့လိုက်ကြ၏။- မြို့တံခါး အနီးသို့
ရောက်သောအခါ၊ မုဆိုးမ၌ တယောက်တည်း
သော သားအသေကောင်ကို သင်းဂြိုဟ်ခြင်းငှါ
ထုတ်သွား၍၊ မြို့သူမြို့သားများတို့သည် လိုက်
၁၃ ကြ၏။- သခင်ဘုရားသည် ထိုမိန်းမကိုမြင်လျှင်သ
နားခြင်း စိတ်တော် ရှိ၍၊ မငိုနှင့်ဟု မိန့် တော်မူ
၁၄ လျက်၊ အနီးသို့ ကြွ၍ တလားကို လက်နှင့် တို့
တော်မူသဖြင့်၊ ထမ်းသောသူတို့သည် ရပ်၍ နေ
ကြ၏။-ကိုယ်တော်ကလည်း၊အချင်းလုလင်၊ထ
လော့၊ သင့်အား ငါအမိန့်ရှိသည်ဟု မိန့်တော်မူ
၁၅ လျှင်၊-သေသောသူသည်ထိုင်၍ စကားပြော၏။
ကိုယ်တော်သည်လည်းထိုသူကို မိခင်အားအပ်
၁၆ နှင်းတော်မူ၏။- ထို အပေါင်းတို့သည် ကြောက်
ရွံ့ခြင်းသို့ ရောက်၍၊ ကြီးမြတ်သော ပရောဖက်
သည်ငါတို့တွင်ပေါ်ထွန်းပြီ၊ ဘုရားသခင်သည်
မိမိလူမျိုးကို အကြည့်အရှုကြွလာတော်မူပြီဟူ
၍၊ ဘုရားသခင်၏ ဂုဏ်တော်ကိုချီးမွမ်းကြ၏။-
၁၇ ထိုသိတင်းတော်သည် ယုဒပြည်မှစ၍ ပတ်ဝန်း
ကျင်အရပ်တို့၌အနှံ့အပြားကျော်စောသတည်း။
၁၈ ယောဟန်၏ တပည့် တို့သည် ထို အကြောင်း
အရာ အလုံးစုံတို့ကို မိမိ ဆရာအား ကြားပြော
၁၉ ကြ၏။-ထိုအခါယောဟန်သည် မိမိတပည့်နှစ်
ယောက်ကို ခေါ်ပြီးလျှင်၊ ယေရှုထံတော်သို့စေ
လွှတ်၍၊ ကိုယ်တော်သည် ကြွလာသော အရှင်
သလော၊ သို့မဟုတ်၊ အခြားသော သူကို မျှော်
၂၀ လင့်ရပါမည်လောဟုမေးလျှောက်စေ၏။-ထိုသူ
တို့သည်အထံတော်သို့ရောက်လျှင်၊ ကိုယ်တော်
သည် ကြွလာသော သူမှန် သလော၊ သို့မဟုတ်၊
အခြားသော သူကို မျှော် လင့်ရ ပါမည် လောဟု
မေးလျှောက်စေခြင်းငှါ၊ နှစ်ခြင်းဆရာယောဟန်
သည် အကျွန်ုပ်တို့ကိုကိုယ်တော်ထံသို့ စေလွှတ်
၂၁ ပါပြီဟုလျှောက်ကြ၏။- ထိုအချိန်နာရီ၌ ယေရှု
သည် လူများတို့ကို အနာရောဂါ ဝေဒနာဘေး၊
နတ်ဆိုးဘေးနှင့်ကင်းလွတ်စေတော်မူ၏၊မျက်စိ
ကန်းသော သူများ တို့ကိုလည်း မျက်စိ မြင်စေ
၂၂ ခြင်းငှါကျေးဇူးပြုတော်မူ၏။-ထိုအခါယေရှုက၊
သင်တို့သည်ကြားရသမျှ၊မြင်ရသမျှတို့ကို သွား
၍ ယောဟန် အား ကြား လျှောက် ကြလော့။
မျက်စိကန်းသောသူတို့သည်မျက်စိမြင်ရကြ၏၊
ခြေမစွမ်းသော သူတို့သည် လှမ်းသွား ရကြ၏၊
နူနာစွဲသောသူတို့သည် ထုံ့ရှင်းခြင်းသို့ ရောက်
ရကြ၏၊ နားပင်းသော သူတို့သည် နားကြားရ
ကြ၏၊ သေသောသူတို့သည် ထမြောက်ခြင်းသို့
၂၃ ရောက်ရကြ၏။- ဆင်းရဲသားတို့သည်ထင်ရှားစွာ
ကြောက်စရာ သိတင်းကိုကြားရကြ၏၊ ငြောင့်
မိတ် မတွက်သော လူသည် မင်္ဂလာရှိ၏ဟု ပြန်
ပြောတော်မူ၏။
၂၄ ယောဟန်စေလွှတ်သောသူတို့သည် သွားကြ
သည် နောက်၊ ယေရှုသည် ယောဟန် ကို အ
ကြောင်းပြု၍ပရိသတ်တို့အား၊သင်တို့သည်အ
ဘယ်မည်သောအရာကိုကြည့်ရှုခြင်းငှါတောသို့
ထွက်သွားကြသနည်း။ လေလှုပ်သော ကျူပင်
၂၅ ကိုကြည့်ရှုခြင်းငှါသွားသလော။- သို့မဟုတ်၊နူး
ညံ့သောအဝတ်ကိုဝတ်ဆင်သောသူကို ကြည့်ရှု

ခြင်းငှါ သွားသလော။ တင့်တယ်သော အဝတ်ကို
ဝတ်ဆင်၍ ကောင်းမွန်စွာ စားသောက်သောသူ
၂၆ တို့သည် မင်းအိမ်၌နေတတ်ကြ၏။ ပရောဖက်ကို
ကြည့်ရှုခြင်းငှါ သွားသလော၊ မှန်ပေ၏၊ ပရော
ဖက်ထက် ကြီးမြတ်သောသူသည်၊ ဖြစ်သည်ဟု
၂၇ ငါဆို၏။- ကျမ်းစာ၌ ထားသည်ကား၊ ကြည့်ရှု
လော့၊ သင် သွားရာ လမ်းကို ပြင်ရသော ငါ၏
တမန်ကို သင့်ရှေ့၌ ငါစေလွှတ်၏ဟု ဆိုရာ၌ ထိုသူ
၂၈ ကို ဆိုလိုသတည်း။- ငါ ဆိုသည်ကား၊ မိန်းမမွေး
သော သူတို့တွင် နှစ်ခြင်း ဆရာ ယောဟန် ထက်
ကြီးမြတ်သော ပရောဖက် တယောက်မျှမရှိ၊ သို့
သော်လည်း၊ ဘုရားသခင်၏ နိုင်ငံတော်တွင် အ
ငယ်ဆုံးသော သူသည် ထိုသူထက် သာ၍ ကြီး
၂၉ မြတ်၏။- အခွန်ခံသူမှစ၍ လူအပေါင်းတို့သည်
ယောဟန်၏ စကားကို ကြားနာ ရလျှင်၊ ဘုရား
သခင်ကို ချီးမွမ်း၍ ယောဟန်ပေးသော နှစ်ခြင်း
၃၀ ကို ခံကြ၏။- ဖာရိရှဲ နှင့် ကျမ်းတတ် တို့ မူကား၊
သူတို့အကျိုးအလိုငှါ ဘုရားသခင်ကြံစည်တော်
မူသော ကျေးဇူးတော်ကို ပယ်၍၊ ယောဟန်၏
နှစ်ခြင်းကို မခံဘဲနေကြ၏။
၃၁ ထိုကြောင့်၊ ဤလူမျိုးကို အဘယ်ဥပမာနှင့် ပုံ
၃၂ ပြရမည်နည်း။ အဘယ်သူနှင့် တူသနည်း။- ပွဲသ
ဘင်၌ ထိုင်နေ သော သူငယ် ချင်း တို့ သည် တ
ယောက်ကို တယောက် အသံ ဟစ်ကြ၍၊ ငါတို့
သည် သာယာစွာ တီးမှုတ်သော်လည်း သင်တို့
သည်မကကြ။ ညည်းတွားစွာ မြည်တမ်း သော်
လည်း မငိုကြွေးကြဟု ပြောဆိုသော သူငယ်တို့
၃၃ နှင့် ဤလူမျိုးသည်တူ၏။- အကြောင်းမူကား၊
နှစ်ခြင်းဆရာယောဟန်သည် မုန့်ကိုမစား၊ စပျစ်
ရည်ကို မသောက်ဘဲလာသည်ရှိသော်၊ သင်တို့
က၊ ဤသူသည်နတ်ဆိုးစွဲသော သူပါတကားဟု
၃၄ ဆိုကြ၏။- လူသားသည် စားသောက်လျက်လာ
သည်ရှိသော်၊ ဤသူသည် စားကြူးသောသူ၊ စပျစ်
ရည်သောက်ကြူးသော သူပါတကား။ အခွန်ခံ
သောသူနှင့် ဆိုးသော သူတို့ကိုမိတ်ဖွဲ့သော
၃၅ သူပါတကားဟု ဆိုပြန်ကြ၏။- သို့သော်လည်း၊
ပညာတရားသည် မိမိသားမြေအများတို့တွင် ကဲ့ရဲ့
ပြစ်တင်ခြင်းနှင့် လွတ်၏ဟု မိန့်တော်မူ၏.
၃၆ ဖာရိရှဲတယောက်သည် အစာကိုသုံးဆောင်
တော်မူစေခြင်းငှါ ကိုယ်တော်ကိုခေါ်ပင့်လျှင်၊ ထို
ဖာရိရှဲ၏ အိမ်သို့ကြွ၍ စားပွဲ၌ ငလျောင်းတော်မူ
၃၇ ၏။- ထိုသို့စားပွဲ၌လျောင်းတော်မူသည်ကို ထိုမြို့
၌ဆိုးသောမိန်းမတယောက်သည် သိလျှင်၊ ဆီမွှေး
၃၈ ကျောက်ဖြူဘူးတလုံးကိုယူခဲ့၍၊- နောက်တော်၌
ခြေတော်အနီးမှာရပ်လျက်ငိုကြွေး၍၊ ခြေတော်
ပေါ်သို့ မျက်ရည်ကျလျှင်၊ မိမိ ဆံပင်နှင့် သုတ်
လေ၏၊ ခြေတော် ကိုလည်း နမ်း၍ ဆီ မွှေး နှင့်
၃၉ လိမ်းလျက် နေလေ၏။- ကိုယ်တော်ကို ခေါ်ပင့်
သော ဖာရိရှဲသည် မြင်လေသော်၊ ဤသူသည်
ပရောဖက်မှန်လျှင်၊ ခြေတော်ကိုကိုင်သော ဤမိန်းမ
သည် အဘယ်သို့သောသူ ဖြစ်သည်ကို သိလိမ့်
မည်၊ ဤမိန်းမ သည် ဆိုးသော သူ ဖြစ်၏ဟု ထင်
မှတ်၏။
၄၀ ယေရှုကလည်း၊ အချင်းရှိမုန်၊ သင့်အား ငါ
ပြောစရာတခုရှိသည်ဟုမိန့်တော်မူလျှင်၊ အရှင်
ဘုရား၊ အမိန့်ရှိတော်မူပါဟု လျှောက် သော်၊-
၄၁ ယေရှုက၊ ဥစ္စာရှင်တဦး၌ ကြွေးစား နှစ်ဦးရှိ၏။
တယောက်၌ ကား၊ ဒေနာရိ အပြား ငါးရာ၊ တ
၄၂ ယောက်၌ ကား၊ ငါး ဆယ် ကြွေးရှိ၏။- သူတို့
သည် ကြွေးဆပ်ရန် မရှိသောကြောင့်၊ ကြွေးရှင်
သည် ထိုသူနှစ်ယောက်တို့ကို အခညီးနှီးလွှတ်
၏။ သို့ဖြစ်လျှင်၊ ထိုသူနှစ်ယောက်တွင် အဘယ်
သူသည် ကြွေးရှင်ကို သာ၍ချစ်လိမ့်မည်နည်းဟု
၄၃ မေးတော်မူ၏။- ရှိမုန်ကလည်း၊ သာ၍ ကျေးဇူး
ကို ခံရ သော သူသည် သာ ၍ ချစ်လိမ့် မည် အ
ကျွန်ုပ်ထင်ပါ၏ဟုလျှောက်လျှင်၊ ယေရှုက၊ သင်
ထင်သည်အတိုင်းမှန်ပေ၏ဟု မိန့်တော်မူပြီးမှ၊-
၄၄ ထိုမိန်းမကိုလှည့်၍ ရှိမုန်အားလည်း၊ သင်သည် ဤ
မိန်းမကိုမြင်သလော၊ သင်၏အိမ်သို့ ငါဝင်သော်၊
သင်သည်ခြေဆေးရေကို မပေး၊ ဤမိန်းမမူကား၊ င
ခြေပေါ်သို့ မျက်ရည် ကျ၍ မိမိဆံပင်နှင့် သုတ်
၄၅ လေပြီ။- သင်သည် ငါ့ကိုမနမ်း။ သူမူကား၊ အိမ်
သို့ဝင်သောအချိန်မှစ၍၊ ငါ့ခြေကိုနမ်း၍လျှော့မစဲ
၄၆ ဘဲနေ၏။- သင်သည် ငါ့ခေါင်းကိုဆီနှင့်မလိမ်း။
၄၇ သူမူကား၊ ငါ့ခြေကိုဆီမွှေးနှင့်လိမ်းလေပြီ။- ထို
ကြောင့် ငါဆိုသည်ကား၊ သူသည်များစွာသော
အပြစ်တို့နှင့် လွတ်သည်ဖြစ်၍ အလွန်ချစ်တတ်
၏။ အနည်းငယ်သော အပြစ်လွှတ်သောသူသည်
အနည်းငယ်မျှသာ ချစ်တတ်သည်ဟု မိန့် တော်
၄၈ မူ၏။- ထိုမိန်းမအားလည်း၊ သင်သည်အပြစ်တို့နှင့်
၄၉ လွတ်လေပြီဟုမိန့်တော်မူ၏။- စားပွဲ၌ လျောင်း
သောသူတို့က၊ အပြစ်ကိုလွှတ်သော ဤသူကား
၅၀ အဘယ်သူနည်းဟု အောင့်မေ့ကြ၏။- ယေရှု
သည်ထိုမိန်းမအား၊ သင်၏ယုံကြည်ခြင်းသည် သင့်

ထိုထယ်ထင်ပြီး ငြိမ်ဝပ်စွာ သွားလေသော့ဟု မိန့်
တော်မူ၏။

## ၈

၁ ထိုနောက်မှကိုယ်တော်သည် မြို့ရွာအစဉ်အ
တိုင်းလှည့်လည်ခရီး ဟောပြောသည်၍၊ဘုရားသခင်၏နိုင်
ငံတော်နှင့် ဆိုင်သော ဧဝံဂေလိတရားကို ဟော
၂ တော်မူ၏။- တကျိပ်နှစ်ပါး သောတပည့်တော်
တို့သည် နောက်တော်သို့ လိုက်ကြ၏၊ နတ်ဆိုး
ထေး၊ အနာရောဂါထေးနှင့်ကင်းလွတ်စေတော်
မူသောမိန်းမအချို့သည်လည်းလိုက်ကြ၏၊ ထိုမိန်း
ထိုတွင် နတ် ဆိုး ခုနှစ်ယောက်ထွက်သော မာဂ
၃ ဒလမြို့သူ မာရိ၊- ဟေရုဒ်မင်း၏စား
တော်ကဲခုဇ၏မယား ယောဟန္နနှင့်ရှုရှန္နစသည်၍၊
မိမိဥစ္စာကိုလှူ၍ ကိုယ်တော်ကို လုပ်ကျွေးသော
အခြားမိန်းမများပါကြ၏။
၄ များစွာသော လူ အပေါင်း တို့သည် မြို့ရွာအ
ရပ်ရပ်တို့မှ အထံတော်သို့လာ၍ စုဝေးလျက်ရှိ
ကြသောအခါ၊ ဥပမာ စကားအားဖြင့် မြွက်ဆို
၅ တော်မူသည်မှာ၊- မျိုးစေ့ကြဲသောသူသည် မျိုး
စေ့ကိုကြဲခြင်းငှါထွက်သွား၏၊အစေ့ကိုကြဲသည်
တွင်အချို့သောအစေ့တို့သည်လမ်း၌ကျသဖြင့်၊
ကျော်နင်းခြင်းကိုခံရ၍ မိုဃ်းကောင်းကင်ငှက်
၆ တို့သည် ကောက်စားကြ၏။- အချို့သော အစေ့
တို့သည်ကျောက်ပေါ်၌ကျသဖြင့်၊အပင်ပေါက်
သောအခါမြေဩဇာမရှိသောကြောင့် ညှိုးနွမ်း
၇ ခြောက်သွေ့ခြင်းသို့ရောက်ကြ၏။- အချို့သောအစေ့
တို့သည်ဆူးပင်တို့တွင်ကျသဖြင့်၊ဆူးပင်တို့သည်
၈ အတူပေါက်၍ ညှည်းဆဲကြ၏။- အချို့သောအ
စေ့တို့သည်ကောင်းသောမြေ၌ကျသဖြင့်၊အပင်
ပေါက်၍ အဆတရာပွားများ၍ အသီးသီးကြ၏
ဟုမိန့်တော်မူပြီးမှ၊ ကြားစရာနားရှိသောသူမည်
သည်ကား၊ကြားပါစေဟု ကျွေးကြော်တော်မူ၏။
၉ တပည့်တော်တို့ကလည်း၊ ထိုဥပမာ၏အနက်
အဓိပ္ပာယ်ကား၊အဘယ်သို့နည်းဟုမေးလျှောက်
၁၀ ကြလျှင်၊- ကိုယ်တော်က၊ သင်တို့သည် ဘုရား
သခင်နိုင်ငံတော်၏ နက်နဲသော အရာတို့ကို သိရ
သောအခွင့်ရှိကြ၏၊ကြွင်းသောသူတို့မူကား၊မြင်
လျက်ပင်အဘယ်မျှ မပြုဘဲမြင်၍၊ ကြားလျက်ပင်အ
နက်ကို နားမလည်ဘဲ ကြားရသည်တိုင်အောင်၊
၁၁ သူတို့အား ဥပမာအားဖြင့်ဟောရ၏။-ထိုဥပမာ
အနက်အဓိပ္ပာယ်ကား၊မျိုးစေ့သည် ဘုရားသခင်
၁၂ ၏တရားစကားဖြစ်၏။-လမ်း၌ ရှိသောသူကား၊
တရားစကားကို ကြားသည့် ရှိသော်၊ ယုံကြည်
ခြင်းအားဖြင့်ကယ်တင်ခြင်းသို့မရောက်စေခြင်းငှါ၊မာရ်
နတ်သည် လာ၍၊ တရားစကားကို နှလုံးထဲမှ
၁၃ နှုတ်ယူသောသူကို ဆိုလိုသတည်း။- ကျောက်
ပေါ်၌ရှိသောသူကား၊ တရားစကားကို ကြား၍
ဝမ်း မြောက် သော စိတ် နှင့် ခံယူ သော် လည်း၊
စိတ်နှလုံး၌ အမြစ်မစွဲ၊ ခဏသာ ယုံကြည်သ
ဖြင့်၊ စုံစမ်း နှောင့်ရှက် ခြင်းကို ခံရသော အခါ
၁၄ နောက်ပြန်သောသူကို ဆိုလိုသတည်း။- ဆူးပင်
တို့တွင်ရှိသောသူကား၊ တရားစကားကို ကြား
သည် ရှိသော်၊ လောကီ မိုးမိုက် ခြင်း၊ စည်းစိမ်
ကြွယ်ဝခြင်း၊ ကာမဂုဏ်ခံစားခြင်းတို့သည်နှိပ်
စက်၍ အသီးမသီးသောသူကို ဆိုလိုသတည်း။-
၁၅ ကောင်းသောမြေ၌ ရှိသောသူကား၊ ဖြောင့်မတ်
စင်ကြယ်သော စိတ်နှလုံးနှင့် တရားစကားကို
ကြားလျှင်၊စွဲလမ်းသောအားဖြင့်မြဲမြံ စွာအသီး
သီးသော သူကို ဆိုလိုသတည်း။
၁၆ ဆီမီးထွန်းပြီးလျှင်၊အိုးဖြင့်ဖုံးထားလေ့
မရှိ၊ ခုတင်အောက်၌လည်း ထားလေ့မရှိ၊ ဝင်
သောသူသည် အလင်းကို မြင်စေခြင်းငှါ ဆီမီးခုံ
၁၇ အပေါ်မှာတင်ထားလေ့ရှိ၏။- ဖုံးကွယ်ရာ၌ရှိ
သမျှတို့သည်ထင်ရှားလိမ့်မည်၊ဝှက်ထားလျက်
ရှိသမျှတို့သည်လည်းထင်ရှားစွာပွင့်ထင်းလိမ့်
၁၈ မည်။-ထိုကြောင့်၊သင်တို့သည်အဘယ်သို့ကြား
နာရသည်ကို သတိပြုကြလော့။ အကြောင်းမူ
ကား၊အကြင်သူသည်ရတတ်၏၊ ထိုသူအားပေး
ဦးမည်၊ အကြင်သူသည်ဆင်းရဲ၏၊ထိုသူ၌ရှိ
ဟန်ဆောင်သမျှကိုပင် နှုတ်ယူလိမ့်မည်ဟု မိန့်
တော်မူ၏။
၁၉ ထိုအခါမယ်တော်နှင့် ညီတော်တို့သည် လာ
၍၊ စည်းဝေးသော သူများသောကြောင့်၊ ကိုယ်
၂၀ တော်ရင်းသို့မချဉ်းကပ်နိုင်ဘဲနေကြ၏။- လူအ
ချို့ကလည်း၊ မယ်တော် နှင့် ညီ တော် တို့ သည်
ကိုယ်တော်ကိုတွေ့လို၍ပြင်မှာရပ်နေကြပါ၏ဟု
၂၁ လျှောက်လျှင်၊- ကိုယ်တော်က၊ ဘုရား သခင်၏
နှုတ်ကပတ်တရားတော်ကို ကြား၍ နားထောင်
သော သူတို့သည်၊ ငါ့အမိ၊ ငါ့ညီဖြစ်သတည်းဟု
မိန့်တော်မူ၏။
၂၂ တနေ့သ၌ယေရှုသည်တပည့်တော်တို့နှင့် အ
တူ လှေထဲသို့ဝင်၍၊ အိုင်တဘက်သို့ ကူးကြစို့
၂၃ ဟုမိန့်တော်မူပြီးလျှင် ထွက်သွားကြ၏။- အိုင်
ကိုကူးသောအခါ ယေရှုသည်ကျိန်းစက်တော်မူ

၏၊ ဆိုင်း၌မိုးသက်မုန်တိုင်းဖြစ်၍၊ လှေသည်
၂၄ ရေနှင့်ပြည့်သောကြောင့်ဘေးရောက်လု၏။-တ
ပည့်တော်တို့သည်ချဉ်းကပ်၍ကိုယ်တော်ကိုနှိုး
ပြီးလျှင်၊ သခင်၊ သခင်၊ အကျွန်ုပ်တို့သည်ပျက်
စီးခြင်းသို့ ရောက်ပါ၏ဟု လျှောက်ကြသော်၊
ကိုယ်တော်သည်ထ၍၊ လေနှင့် လှိုင်းတံပိုးကို
ဆုံးမတော်မူသဖြင့်၊ လေ နှင့် လှိုင်း တံ ပိုးသည်
၂၅ ငြိမ်း၍ သာယာလေ၏။- ကိုယ်တော်ကလည်း၊
သင်တို့ယုံကြည်ခြင်းမိတ်သည်အဘယ်မှာရှိသ
နည်းဟုမေးတော်မူလျှင်၊သူတို့သည်ကြောက်ရွံ့
ထိတ်လန့်ကြ၍၊ဤသူကားအဘယ်သို့သောသူနည်း။
လေနှင့်ရေကိုပင်မှာထားတော်မူ၍၊ သူတို့သည်
နားထောင်ပါသည်တကားဟု၊ အချင်းချင်းပြော
ဆိုကြ၏။
၂၆ ဂါလိလဲပြည်နှင့်ဆိုင်တဖက်ဖြစ်သောဂါဒရ
၂၇ ပြည်သို့ရောက်ကြ၍၊-ယေရှုသည်ကုန်းပေါ်သို့
တက်တော်မူလျှင်၊ ကာလတာရှည် စွာနတ်ဆိုးစွဲ
သဖြင့်အဝတ်ကိုမဝတ်၊အိမ်၌မနေ၊ သင်္ချိုင်း
တစပြင်၌ နေ တတ် သော ဂါဒရ ပြည်သား၊ တ
ယောက်သည် ကိုယ်တော်ကို ခရီးဦးကြိုပြုလေ
၂၈ ၏။- ကိုယ်တော်ကိုမြင်လျှင် ပြပ်ဝပ်၍၊ အမြင့်
ဆုံးသောဘုရားသခင်၏သားတော်ယေရှု၊ကိုယ်
တော်သည်အကျွန်ုပ်နှင့်အဘယ်သို့ဆိုင်သနည်း။
အကျွန်ုပ်ကိုညှဉ်းဆဲတော်မမူမည်အကြောင်း
အကျွန်ုပ် တောင်းပန်ပါသည်ဟု၊ ကြီးသောအ
၂၉ သံနှင့်အော်ဟစ်၍ လျှောက် လေ၏။- လျှောက်
သည် အကြောင်းကား၊ နတ်ဆိုးသည် ထိုလူကို
အဖန်ဖန်များစွာဖမ်းဆီးဖူးပြီ။ ခြေချင်းသံကြိုးနှင့်
အကျဉ်းထားသော်လည်း၊ခြေချင်း၊သံကြိုးကို
ဆွဲဖြတ်၍၊နတ်ဆိုးသည်တောအရပ်သို့ နှင်မြဲရှိ
ကြောင်းကို ကိုယ်တော်သည် ငှထောက်၍၊ ညစ်
ညူးသောနတ်၊ ထိုလူမှ ထွက်သွားလော့ဟု မိန့်
၃၀ တော်မူခဲ့ပြီ။- ယေရှုကလည်း၊ သင် သည် အ
ဘယ်အမည်ရှိသနည်းဟု မေးတော်မူလျှင်၊ ထို
လူကို နတ်ဆိုးအများ စွဲသောကြောင့် အကျွန်ုပ်
အမည်ကား၊လေဂေါင်ဖြစ်ပါသည်ဟုလျှောက်
၃၁ ပြီးမှ၊- အနက်ဆုံးသောအရပ်သို့ သွားစေခြင်း
ငှါမနှင်ပါမည်အကြောင်းတောင်းပန်လေ၏။
၃၂ ထိုအရပ်၌ တောင်ပေါ်မှာ များစွာသောဝက်
အစုသည် ကျက်စားလျက် ရှိ၏။ ထိုဝက်ထဲသို့
ဝင်ရပါမည့်အကြောင်း အခွင့်ပေးတော်မူပါဟု၊
နတ်ဆိုးတို့သည်တောင်းပန်ပြန်လျှင် အခွင့်ပေး
၃၃ တော်မူ၏။- နတ်ဆိုးတို့သည်လူမှထွက်၍ ဝက်
ထဲသို့ဝင်သဖြင့်၊ဝက်အစုသည်ဆိုင်ကမ်းစောက်
ကိုတထုန်တည်းပြေးဆင်း၍အသက်ဆုံးကြ၏။-
၃၄ ဝက်ကျောင်းသော သူတို့သည် ထိုအခြင်းအရာ
ကို မြင်လျှင်၊ ပြေး၍ မြို့ရွာတို့၌ သိတင်းကြား
၃၅ ပြောကြသော်၊-လူများတို့သည်ထိုအမှုအရာကို
ကြည့်ရှုအံ့သောငှါ ထွက်လာကြ၏။ အထံတော်
သို့ ရောက်သောအခါ နတ်ဆိုးထွက်သွားသော
သူသည်အဝတ်ကိုဝတ်၍၊ပကတိစိတ်နှင့်ယေရှု
၏ ခြေ တော် ရင်း၌ ထိုင် နေ သည် ကို မြင် လျှင်၊
၃၆ ကြောက်ရွံ့ ခြင်း သို့ ရောက် ကြ ၏။- နတ်ဆိုးစွဲ
သောသူသည် အဘယ် သို့သော အားဖြင့် ကျွန်း
မာ ပကတိရှိသည်ကို သိမြင်သော သူတို့ သည်၊
၃၇ နောက်လာသောသူတို့အားပြန်ကြားပြီးမှ၊-ဂါ
ဒရပြည်သူ ပြည်သားအပေါင်းတို့သည် အလွန်
ကြောက် လန့် သော စိတ် စွဲ ၍၊ မိမိ တို့ ပြည် က
ထွက်သွားတော် မူမည်အကြောင်း တောင်းပန်
ကြလျှင်၊ ကိုယ်တော်သည် လှေထဲသို့ဝင်၍ ပြန်
တော်မူ၏။
၃၈ နတ်ဆိုးထွက်သွားသောသူသည်ကိုယ်တော်
နှင့် အ တူ ရှိ ပါ မည် အ ကြောင်း တောင်း ပန်
၃၉ လျှင်၊- ယေရှုက၊ သင်သည် ကိုယ်အိမ်သို့ ပြန်
သွားလော့။ဘုရားသခင်သည်သင်၌ အဘယ်မျှ
လောက်ကျေးဇူး ပြုတော်မူသည်ကို ကြားပြော
လော့ဟူ၍ွှတ်လိုက်တော်မူလျှင်၊ထိုသူသည်
သွား၍၊ယေရှုသည်အဘယ်မျှလောက်ကျေးဇူး
ပြုတော်မူသည်ကို၊တမြို့လုံးတွင်အနှံ့အပြားသိ
တင်းကြားပြောလေ၏။
၄၀ ယေရှုသည် ပြန်တော်မူလျှင်၊ လူအစု အဝေး
အပေါင်းတို့သည်ကိုယ်တော်ကိုမျှော်လင့်လျက်
နေကြသောကြောင့်၊ ဝမ်းမြောက်စွာလက်ခံကြ
၄၁ ၏။-ထိုအခါသာရှုရုံအမည်ရှိသောတရားဇရပ်
မှူးသည်လာ၍ ယေရှု၏ခြေတော်ရင်း၌ ပြပ်ဝပ်
၄၂ လျက်၊- တဆယ်နှစ်နှစ် အရွယ်ရှိသောမိမိ၌ တ
ယောက်တည်းသော သမီးသည် သေ ဆဲ ရှိသော
ကြောင့်၊ မိမိအိမ်သို့ ကြွတော်မူမည်အကြောင်း
ကိုယ် တော်ကို တောင်း ပန်၍၊ ကြွတော် မူစဉ်
တွင် လူ အစု အဝေး တို့သည် ကိုယ်တော်ကို ထိ
၄၃ ခိုက်တိုက်မိကြ၏။-ထိုအခါတဆယ်နှစ်နှစ်ပတ်
လုံးသွေးသွန် အနာစွဲသောကြောင့်၊ ဥစ္စာရှိသမျှ
ကို ဆေးသမားတို့အားပေး၍ ကုန်သော်လည်း၊
အဘယ် ဆေးသမားထံ၌မျှ ပျောက်သောရောဂါ

၄၄ သော မိန်းမ တယောက် သည်၊- နောက် တော် သို့
ချဉ်း ကပ်၍အဝတ်တော် ၏ ပန်းပွား ကို ထိုသ
ဖြင့်၊ ထိုခဏချင်းတွင် သွေး သွန် အနာ ပျောက်
၄၅ လေ၏။-ယေရှုကလည်း၊ ငါကို အဘယ်သူတို့သ
နည်းဟု မေးတော်မူလျှင်၊ လူအပေါင်း တို့သည်
ငြင်းလတ်သော်၊ ပေတရုမှစ၍သူ၏အပေါင်းအ
ဖော်တို့က၊သခင်၊ လူအစုအဝေးတို့သည်ကိုယ်
တော်အား ထိခိုက်တိုက်မိကြသည်ဖြစ်၍၊ ငါကို
အဘယ်သူတို့သနည်းဟုမေးတော်မူပါသည်တ
၄၆ ကားဟုလျှောက်လေ၏။- ယေရှုကလည်း၊ တစုံ
တယောက်သောသူသည်ငါ့ကိုတို့လေပြီ။ငါ့ကိုယ်
မှ တန်ခိုး ထွက်သည်ကို ငါသိ၏ဟု မိန့်တော်မူ
၄၇ ၏။- ထိုမိန်းမသည်မိမိပုန်းရှောင်၍ မနေနိုင်သည်
ကို သိလျှင် တုန်လှုပ်လျက် လာ၍၊ အဘယ် အ
ကြောင်းကြောင့် တို့သည်ကိုငှင်၊ ချက်ချင်းချမ်း
သာရသည် ကိုငှင်၊ လူ အပေါင်း တို့ရှေ့မှာ ပြပ်
၄၈ ဝပ်လျက်ကြားလျှောက်လေ၏။-ကိုယ်တော်က
လည်း၊ငါ့သမီး၊မစိုးရိမ်နှင့်။သင်၏ယုံကြည်ခြင်း
သည်သင့်အနာကိုငြိမ်းစေပြီ။ ငြိမ်ဝပ်စွာသွား
လော့ဟုမိန့်တော်မူ၏။
၄၉ ထိုသို့မိန့်တော်မူစဉ်တွင်တရားဇရပ်မှူး၏အိမ်
မှလူလာ၍၊ကိုယ်တော်၏သမီးသေပါပြီ။ဆရာကို
၅၀ မနှောင့်ရှက်ပါနှင့်ဟု ဆို၏။- ယေရှုသည် ကြား
လျှင်၊မကြောက်ကြနှင့်။ ယုံကြည်ခြင်းစိတ်တခု
သာရှိစေလော့။ ထိုသို့ရှိလျှင် သူသည် အေးနှင့်
လွတ် လိမ့် မည်ဟု၊ တရား ဇရပ် မှူး အား မိန့်
၅၁ တော်မူ၏။- အိမ်သို့ရောက်လျှင်၊ပေတရု၊ ယော
ဟန်၊ ယာကုပ်နှင့် မိန်းမ ငယ်၏ မိဘမှတပါး အ
တယ်သူကိုမျှ အထဲသို့မဝင်စေခြင်းငှါ ဆီးတား
၅၂ တော်မူ၏။- လူ အပေါင်းတို့သည် ငိုကြွေး မြည်
တမ်းကြသည်ကိုကိုယ်တော်က၊ မငိုကြနှင့်။သူ
ငယ် သေသည်မဟုတ်၊ အိပ်ပျော်သည်ဟု မိန့်
၅၃ တော်မူလျှင်၊- သူငယ် သေကြောင်းကို ထိုသူတို့
သည် သိသဖြင့် ကိုယ်တော်ကို ပြက်ရယ်ပြုကြ
၅၄ ၏။- ထိုသူရှိသမျှတို့ကို ပြင်သို့ ထွက်စေပြီးမှသူ
ငယ်၏ လက်ကို ကိုင်တော်မူလျက်၊ သူငယ်၊ ထ
၅၅ လော့ဟုခေါ်တော်မူသည်တွင်၊- စိတ်ဝိညာဉ်ပြန်
၅၆ လာ၍မိန်းမငယ်သည်ချက်ချင်းထလေ၏။-သူ့အား
စားစရာပေးလော့ဟုမိန့်တော်မူ၏။မိဘတို့သည်
မိန်းမောတွေဝေခြင်းသို့ရောက်ကြ၏။ထိုအမှုအ
ရာကိုအဘယ်သူ့အားမျှမပြောရမည့်အကြောင်း
ပညတ်တော်မူ၏။

၉

၁ တကျိပ် နှစ်ပါး သော တပည့် တော်တို့ ကို စု
ဝေးစေတော်မူပြီးမှ၊ နတ်ဆိုးအပေါင်းတို့ကို နိုင်
သောတန်ခိုးနှင့်အနာရောဂါတို့ကို ငြိမ်းစေခြင်း
၂ ငှါအခွင့်တန်ခိုးကိုပေးတော်မူ၏။- ဘုရားသခင်
၏နိုင်ငံတော်အကြောင်းကို ဟောပြောစေခြင်းငှါ
၎င်၊ လူနာတို့ကိုချမ်းသာစေခြင်းငှါ၎င် စေလွှတ်
၃ တော်မူ၍၊- သင်တို့သည်လမ်းခရီးအဖို့အဘယ်
အရာကိုမျှမယူကြနှင့်။တောင်ဝေး၊ လွယ်အိတ်၊
မုန့်၊ငွေကိုမယူကြနှင့်။ အင်္ကျီနှစ်ထည်ကိုလည်း
၄ မပါစေကြနှင့်။- မည်သည်အိမ်သို့ဝင်လျှင်၊ထို
အိမ်တွင်ထိုအရပ်မှမထွက်မသွားမှီတိုင်အောင်
နေကြလော့။ အကြင် သူတို့ သည် သင်တို့အား
၅ ဧည့်သည် ဝတ်ကိုမပြုဘဲနေ၏၊- ထိုသူတို့နေရာ
မြို့မှ ထွက်သွားစဉ်၊ သူတို့ တဖက်၌ သက်သေ
ဖြစ်စေခြင်းငှါ သင်တို့၏ခြေဖဝါးမှမြေမှုန့်ကို ခါ
၆ လိုက်ကြလော့ဟုမိန့်တော်မူ၏။- တပည့်တော်
တို့သည်ထွက်သွား၍ ဧဝံဂေလိတရားကိုဟော
လျက်၊ခပ်သိမ်းသောအရပ်တို့၌အနာရောဂါကို
ငြိမ်း စေ လျက်၊ မြို့ရွာ တို့တွင် ဒေသစာရီ လှည့်
လည်ကြ၏။
၇ ယေရှုပြုတော်မူသမျှတို့ကို စော်ဘွားဟေရုဒ်
သည်ကြားလျှင် တွေးတောသော စိတ်ရှိ၏။ အ
ကြောင်း မူကား၊ လူအချို့က၊ ယောဟန် သည်
၈ သေခြင်းမှထမြောက်လေပြီဟုဆိုကြ၏။- အချို့
က၊ ဧလိယ ပေါ်ထွန်း ပြီဟု ဆိုကြ၏။ အချို့က၊
ရှေးပရောဖက်တပါးပါးထမြန်ပြီဟု ဆိုကြ၏။-
၉ ဟေရုဒ်မင်းကလည်း၊ ယောဟန်၏လည်ပင်းကို
ငါဖြတ်လေပြီ။ ဤမျှလောက်သောသိတင်းကိုငါ
ကြားရသော ဤသူကား အဘယ်သူနည်းဟု ဆို
လျက်၊ယေရှုကိုမြင်ခြင်းငှါအလိုရှိ၏။
၁၀ တမန်တော်တို့သည်အထံတော်သို့ပြန်လာ၍၊
မိမိတို့ ပြုသမျှတို့ကို ကြားလျှောက်ကြ၏။ ကိုယ်
တော်သည် သူတို့ကိုခေါ်၍၊ ဗက်ဇဲဒမြို့ နယ်အ
တွင်း၊တော၌ဆိတ်ကွယ်ရာအရပ်သို့ ကြွတော်မူ
၏။ လူအစုအဝေးတို့သည် သိလျှင် နောက်တော်
၁၁ သို့ လိုက်ကြ၏။- ထို လူများကို လက်ခံ တော်မူ
လျက်၊ ဘုရားသခင်နိုင်ငံတော်၏ အကြောင်းကို
ဟော ပြော၍၊ နာ သော သူတို့ကို ချမ်းသာ ပေး
တော်မူ၏။
၁၂ မိုးချုပ်သောအခါ တကျိပ် နှစ်ပါး သော
သူတို့သည်ချဉ်းကပ်လျက်၊လူများတို့သည်ပတ်

ဝန်းကျင်ရွာတနယ်သို့သွား၍၊ ထိပ်ရာ၊ စားစရာ
ကိုရှာစေခြင်းငှါ ထွက်သွားပေးတော်မူပါ၊ ဤအရပ်
သည်တောအရပ်ဖြစ်ပါ၏ဟုလျှောက်ကြလျှင်၊-
၁၃ ကိုယ်တော်က၊ သူတို့စားစရာကို သင်တို့ပေးကြ
လော့ဟုမိန့်တော်မူ၏၊ တပည့်တော်တို့ကလည်း၊၊
အကျွန်ုပ်တို့သည်သွား၍ ဤလူအပေါင်းတို့စား
စရာကိုမဝယ်လျှင်၊ မုန့်ငါးလုံးနှင့်ငါးနှစ်ကောင်
မှတပါး အထံယ်စားစရာမှာအကျွန်ုပ်တို့၌မရှိပါ
၁၄ ဟု လျှောက်ကြ၏၊- ထိုသို့ လျှောက် သည် အ
ကြောင်းကား၊ လူငါးထောင်ခန့်မျှ ရှိသတည်း၊၊
ထိုအခါလူများတို့ကို တစုလျှင် ငါးဆယ်စီအစု
၁၅ စုထိုင်းကြစေဟု အမိန့် တော်ရှိ၏၊- တပည့်
တော်တို့သည် အမိန့်တော် အတိုင်းပြု၍၊ လူအ
၁၆ ပေါင်းတို့ကို လျောင်းစေပြီးလျှင်၊- ယေရှုသည်
မုန့် ငါးလုံးနှင့် ငါး နှစ်ကောင်ကိုယူ၍ ကောင်း
ကင်သို့ ကြည့်မျှော်လျက်၊ ကျေးဇူးတော်ကို ချီး
မွမ်းပြီးမှ မုန့်ကိုဖဲ့၍၊ လူများအရှေ့၌ ထည့်စေခြင်း
၁၇ ငှါတပည့်တော်တို့အား ပေးတော်မူ၏၊- လူအ
ပေါင်းတို့သည် စား၍ ဝကြပြီးမှ၊ ကြွင်းရစ်သော
အကျိုး အဖဲ့ ကို ကောက် သိမ်း၍ တဆယ် နှစ်
တောင်းအပြည့်ရကြ၏၊
၁၈ တရံရောအခါ၊ ယေရှုသည် တပည့် တော်တို့
နှင့်တကွ ဆိတ်ကွယ်ရာအရပ်၌ ဆုတောင်းတော်
မူစဉ်၊လူများတို့သည်ငါ့ကို အဘယ်သူဖြစ်သည်
၁၉ ကိုဆိုကြသနည်းဟု မေးမြန်းတော်မူလျှင်၊- လူ
အချို့က၊ ကိုယ်တော်သည် နှစ်ခြင်းဆရာ ယော
ဟန် ဖြစ်သည် ဟု၍ ၎င်၊ အချို့က၊ ဧလိယ ဖြစ်
သည် ဟု၍၎င်၊ အချို့က၊ ရှေးပရောဖက်တပါး
ပါးထမြောက်သည်ဟု၍၎င် ဆိုကြပါ၏ဟုလျှောက်
၂၀ ကြသော်၊- သင်တို့သည်း ငါ့ကို အဘယ် သူ ဖြစ်
သည် ဆိုကြ သနည်းဟု မေးမြန်းတော် မူလျှင်၊
ပေတရုက၊ ကိုယ်တော်သည်ဘုရားသခင်၏ခရစ်
၂၁ တော် ဖြစ်တော်မူသည်ဟု လျှောက် သော်၊- ထို
အကြောင်း ကို အဘယ် သူ အား မှ မပြော မိန့်
သောငှါတပည့်တော်တို့ကို ကြပ်တည်းစွာသြတ်
၂၂ တော်မူ၏၊- ထိုမှတပါး၊ လူသားသည်များစွာခံ
ရမည်၊ လူအကြီးအကဲ၊ ယဇ်ပုရောဟိတ်အကြီး
အကဲ၊ ကျမ်းပြုဆရာတို့၏ ငြင်းပယ်ခြင်းကို၎င်၊ အသေ
သတ်ခြင်းကို၎င်ခံရမည်၊ သုံးရက်မြောက်သော
နေ့၌ ထမြောက် လိမ့် မည် ဟု သော အကြောင်း
များတို့ကို မိန့်တော်မူ၏၊
၂၃ ထိုမှတပါး၊ လူ အပေါင်းတို့ အား မိန့်တော်မူ
သည်ကား၊ ငါ့နောက်သို့လိုက်သောသူဖြစ်လျှင်
ကိုယ်ကိုကိုယ်ငြင်းပယ်ရမည်၊ ကိုယ်လက်ဝါး
ကပ်တိုင်ကိုနေ့တိုင်းထမ်း၍ ငါ့နောက်သို့လိုက်
၂၄ ရမည်၊ အကြင်သူသည် မိမိအသက်ကိုကယ်
ဆယ်ခြင်းငှါ အလိုရှိ၏၊ ထိုသူသည် အသက် ရှုံး
လိမ့်မည်၊ အကြင်သူသည်ငါ့ကြောင့်အသက်ရှုံး
၏၊ ထိုသူသည် မိမိအသက်ကို ကယ်ဆယ် လိမ့်
၂၅ မည်၊- ဤလောကဓာတ်ကို အကြွင်းမဲ့ အ မြိုးရ၍၊
ကိုယ်ကို ကိုယ် ဆုံးရှုံးသော သူသည် အ ထယ်
၂၆ ကျေးဇူးရှိသနည်း၊၊- အကြင်သူသည် ငါ့ကို၎င်၊
ငါ့စကားကို၎င်ရှက်၏၊ လူသားသည် မိမိဘုန်း၊
မိမိအဖ ခမည်း တော် ၏ ဘုန်း၊ သန့်ရှင်း သော
ကောင်းကင်တမန်တို့၏ဘုန်းကိုဆောင်လျက်ကြွ
၂၇ လာသောအခါ၊ထိုသူကိုရှက်တော်မူလတံ့၊- ငါ
အမှန်ဆိုသည်ကား၊၊ ဤအရပ်၌ရှိသောသူအချို့
တို့သည် ဘုရား သခင် ၏ နိုင်ငံတော်ကို မမြင်မီ
သေခြင်းသို့မရောက်ရကြဟုမိန့်တော်မူ၏၊
၂၈ ထိုသို့မိန့်တော်မူသဉ်နောက်၊ရှစ်ရက်လောက်
လွန်သောအခါ၊ယေရှုသည်ပေတရု၊ယောဟန်၊
ယာကုပ်တို့ကိုခေါ်၍၊ ဆုတောင်းခြင်းငှါတောင်
၂၉ ပေါ်သို့ တက်ကြွတော်မူ၏၊- ဆုတောင်းတော်မူ
စဉ်တွင် မျက်နှာတော်သည် ထူးခြားသော အ
ဆင်း အရောင်ရှိ၍၊ အဝတ် တော်လည်း ဖြောင်
၃၀ ပြောင် လက် ထက် ဖြူ ၏၊- မောရှေ နှင့် ဧလိယ
တည်းဟူသော လူနှစ်ယောက်တို့သည်ဘုန်းအ
၃၁ သရေနှင့် ထင် ရှား၍၊- ကိုယ် တော် နှင့် အတူ
ဆွေးနွေးလျက်၊ ယေရုရှလင်မြို့၌ စုတေ့တော်မူ
၃၂ မည် အကြောင်း အရာကို ပြောကြ၏၊- ပေတရု
နှင့်သူ၏အပေါင်းတို့သည်မျက်စိလေးလံသဖြင့်တ
ငိုက်ငိုက် ရှိကြ၏၊ နိုးသောအခါ ဘုန်း အသရေ
တော်ကို၎င်၊ ကိုယ်တော် နှင့် ရပ်နေသောလူနှစ်
၃၃ ယောက်ကို၎င် မြင်ကြ၏၊- ထိုသူတို့သည် အထံ
တော်မှသွားကြစဉ်၊ပေတရုက၊သခင်၊ဤအရပ်
၌ နေ ရသည် ကောင်းပါ၏၊ ကိုယ် တော်တို့ တဲတ
ဆောင်၊ မောရှေ တို့ တ ဆောင်၊ ဧလိယ တို့ တ
ဆောင်၊ တဲသုံးဆောင်ကို အကျွန်ုပ်တို့ ဆောက်
လုပ်ပါရစေဟု၊ သောင်ယာမ်း၍ လျှောက် လေ
၃၄ ၏၊- ထိုသို့လျှောက်ပြီးမှ မိုဃ်းတိမ်သည်သူတို့
ကိုလွှမ်းမိုး၍၊ မောရှေနှင့်ဧလိယသည် တိမ်ထဲ
သို့ဝင်သည်ကို တပည့်တော်တို့သည် ကြောက်
၃၅ ခြင်းရှိကြသည်ဖြစ်၍၊-ဤသူကားငါ၏ချစ်သား
ပေတည်း၊ သူ၏စကားကို နားထောင်ကြလော့

၃၆ ထု၊ မိုဃ်းတိမ်က အသံတော်ဖြစ်လေ၏။- ထို
အသံတော်ဖြစ်သည်ခဏချင်း၌၊ ယေရှုသည်
တယောက်တည်း ရှိတော်မူ၏။ တပည့်တော်
တို့သည် မိမိတို့မြင်သောအရာကို ဖွတ်ထား၍၊
ထိုကာလ၌အဘယ်သူအားမျှ မကြားမပြောဘဲ
နေကြ၏။
၃၇ နက်ဖန်နေ့၌ တောင်ပေါ်က ဆင်းကြပြီးလျှင်၊
များစွာသောလူအစုအဝေးသည်ကိုယ်တော်ကို
၃၈ ခရီးဦးကြိုပြု၏။- လူအစုအဝေး၌ ပါသောသူ
တယောက်က၊ အရှင်ဘုရား၊ အကျွန်ုပ်၏ သား
ကို ကြည့်ရှုတော်မူမည်အကြောင်း၊ အကျွန်ုပ်
တောင်း၊ ပန်ပါ၏။ အကျွန်ုပ်၌ သား တယောက်
၃၉ တည်းရှိပါ၏။- နတ်ပမ်းစားသဖြင့်သူသည်ရုပ်
ခနဲအော်ဟစ်၍၊ အမြှုပ်ထွက်လျှက်တောင့်မာ
ခြင်းသို့ရောက်တတ်ပါ၏။ထိုသို့နာကျဉ်းစွာနှိပ်
၄၀ စက်ပြီးမှနတ်သည်အလွှန်သွားခဲ၏။-ထိုနတ်ကို
နှင်ထုတ်ပါမည်အကြောင်းတပည့်တော်တို့အား
အကျွန်ုပ်တောင်းပန်သော်လည်း၊ သူတို့သည်မ
တတ်နိုင်ကြပါဟုအော်ဟစ်လျက် လျှောက်လေ
၄၁ ၏။-ယေရှုကလည်း၊ယုံကြည်ခြင်းမရှိ၊ဖေါက်
ပြန်သောအမျိုး၊ ငါသည် သင်တို့နှင့်အတူအ
ဘယ်မျှ ကာလပတ်လုံးနေရမည်နည်း၊ သင်တို့
ကို အဘယ်မျှ ကာလပတ်လုံး သည်းခံ ရမည်
နည်း၊ သင်၏သားကိုထိုသို့ယူခဲ့ဟု မိန့်တော်မူ
၄၂ ၏။- သူငယ်လာစဉ်ပင်နတ်ဆိုးသည် မြေပေါ်
မှာလှည်း၍တောင့်မာစေ၏။ယေရှုသည်ညစ်ညူး
သောနတ်ကိုဆုံး၍ ထိုသူငယ်ကိုချမ်းသာစေပြီး
၄၃ မှ အဘအားအပ်ပေးတော်မူ၏။- လူအပေါင်းတို့
သည်ဘုရားသခင်၏မဟာတန်ခိုးတော်ကိုမြင်၍
မိန်းမောတွေဝေခြင်းရှိကြ၏။
၄၄ ထိုသို့ယေရှုပြုတော်မူသမျှကို လူအပေါင်းတို့
သည် အံ့ဩြခြီးမွမ်းကြစဉ် တပည့်တော်တို့
အား၊ သင်တို့သည်စကားကိုနားထောင်မှတ်မိ
ကြလော့၊ လူသားကို လူတို့လက်သို့ အပ်နှံ ရ
၄၅ သော အချိန်နီးပြီဟု မိန့်တော်မူ၏။- ထိုစကား
တော်၏အနက်မထင်ရှားသဖြင့်တပည့်တော်တို့
သည်နားမလည်၊ မရိပ်မိကဲနေကြ၏။ အနက်ကို
ထည်း မေးမမေးလျှောက်ဝံ့ကြ။
၄၆ ထိုအခါ အဘယ်သူသည်သာ၍ ကြီးမြတ်ဘို့
နည်းဟု တပည့်တော်တို့သည် အချင်းချင်းငြင်း
၄၇ ခုံကြ၏။- ယေရှုသည်သူတို့အကြံအစည်ကိုသိ
မြင်လျှင်၊ သူငယ်တယောက်ကိုယူ၍မိမိအနား၌
၄၈ ထားပြီးမှ၊-အဖြင့်လူသဦ်ငရှုတ်နှာကိုထောက်
၍ ဤသူငယ်ကို လက်ခံ၏၊ ထိုသူသည် ငါ့ကိုပင်
လက်ခံ၏။ ငါ့ကိုလက်ခံသော သူသည်လည်း ငါ
ကိုစေလွှတ်တော်မူသောသူကိုပင်လက်ခံ၏။သင်
တို့တွင် အငယ်ဆုံးသောသူသည်သာ၍ကြီးမြတ်
၄၉ သောသူ ဖြစ်လိမ့်မည်ဟု မိန့်တော်မူ၏။- ယော
ဟန်ကလည်း၊သခင်၊ကိုယ်တော်၏နာမကိုအမှီ
ပြု၍နတ်ဆိုးတို့ကိုနှင်ထုတ်သောသူတယောက်
ကိုအကျွန်ုပ်တို့တွေ့ပါ၏။ သူသည်အကျွန်ုပ်တို့နှင့်
အတူမလိုက်သောကြောင့်အကျွန်ုပ်တို့မြစ်တား
၅၀ ကြပါ၏ဟုလျှောက်သော်၊-ယေရှုက၊ထိုသူကိုမ
မြစ်တားကြနှင့်၊ သင်တို့ရန်သူဘက်၌ မရှိသော
သူသည်သင်တို့ဘက်၌ရှိသည်ဟု မိန့်တော်မူ၏။
၅၁ ကောင်းကင်သို့ ဆောင်ယူခြင်းကို ခံတော်မူ
သော အချိန်ရောက်သောအခါ၊ ယေရုရှလင်မြို့
သို့တူရူကြွဘို့သောငှါ သဘောထားတော်မူ၏။-
၅၂ ရှေ့တော်သို့ တမန်တော်တို့ကို စေလွှတ်တော်မူ
သဖြင့်၊သူတို့သည်ကိုယ်တော်၏အမှီကိုပြင်ဆင်
ခြင်းငှါသွား၍၊ ရှမာရိရွာတရွာသို့ ဝင်ကြ၏။-
၅၃ ကိုယ်တော်သည်ယေရုရှလင်မြို့သို့သွားဘို့သော
အခြင်းအရာကိုထိုရွာသားတို့သည် ထောက်၍
၅၄ လက်မခံကြ။- ထိုအကြောင်းကို တပည့်တော်
ယာကုပ်၊ယောဟန်တို့သည်မြင်လျှင်၊သခင်၊ဧလိ
ယပြုသကဲ့သို့ အကျွန်ုပ်တို့သည် ကောင်းကင်မှ
မီးကျစေ၍ ထိုသူတို့ကိုဆောင်စေခြင်းငှါအလိုရှိ
၅၅ တော်မူသလောဟု လျှောက်ကြသော်၊- ယေရှု
သည်လှည့်ကြည့်၍၊ သင်တို့သည်ကိုယ်မိတ်သ
ဘောကိုကိုယ်မသိကြ။ လူသားသည်လူတို့၏အ
သက်ကို သတ်ဘို့သောငှါ ကြွလာသည်မဟုတ်။
ကယ်တင်ဘို့သောငှါကြွလာသည်ဟုဆုံးမတော်
၅၆ မူပြီးမှ၊-အခြားသောရွာသို့ကြွတော်မူ၏။
၅၇ လမ်း၌သွားကြစဉ်လူတဦးက၊ သခင်၊ကိုယ်
တော်ကြွတော်မူရာအရပ်ရပ်သို့ အကျွန်ုပ်လိုက်
၅၈ ပါမည်ဟုလျှောက်လေ၏။-ယေရှုကလည်း၊မြေ
ခွေးသည် မြေတွင်းရှိ၏။ မိုဃ်း ကောင်း ကင်၌
ကျင်လည်သောငှက်သည်နားနေရာ အရပ်ရှိ၏။
လူသားမူကား၊ ခေါင်းချရာမျှမရှိဟု မိန့်တော်မူ
၅၉ ၏။- အခြားသောသူကို၊ငါ့နောက်သို့လိုက်လော့
ဟုမိန့်တော်မူလျှင်၊ ထိုသူက၊သခင်၊အကျွန်ုပ်အ
ဖကိုရှေးဦးစွာ သွား၍ သင်္ဂြိုဟ်ရသော အခွင့်
၆၀ ကိုပေးတော်မူပါဟုလျှောက်လေသော်၊- ယေရှု
က၊ လူသေတို့သည် မိမိလူသေတို့ကို သင်္ဂြိုဟ်

ပါစေလော့၊ သင်မူကား၊ သွား၍ဘုရားသခင်နိုင်ငံ
တော်၏ အကြောင်းကို ဟောပြောလော့ဟု မိန့်
၆၀ တော်မူ၏၊- အခြားသော သူကလည်း၊ အရှင်၊
ကိုယ်တော်နောက်သို့ အကျွန်ုပ် လိုက်ပါမည်၊
သို့သော်လည်း၊ အကျွန်ုပ်အိမ်၌ရှိရစ်သောသူတို့
ကို အရင်သွား၍ အခွင့်ပန်ပါရစေဟု လျှောက်
၆၂ လျှင်၊- ယေရှုက၊ ထွန်ကိုင်းကိုကိုင်လျက်နောက်
သို့လှည့်၍ကြည့်သောသူမည်သည်ကား၊ ဘုရား
သခင်၏နိုင်ငံတော်နှင့်မထိုက်မတန်ဟုမိန့်တော်
မူ၏၊

၁၀

၁ ထိုနောက်မှသခင်ဘုရားသည်အခြားသောတ
ပည့်တော် ခုနှစ်ကျိပ်တို့ကို ခန့်ထားတော်မူ၍၊
ကိုယ်တိုင်ကြွလေတော့မည့်သောမြို့ရွာအရပ်ရပ်တို့သို့
ရှေ့တော်၌ နှစ်ယောက်စီနှစ်ယောက်စီ စေလွှတ်
၂ တော်မူ၏၊- သူတို့အား မိန့်တော်မူသည်ကား၊
စပါးရိတ်စရာများစွာရှိ၏၊ ရိတ်သောသူတို့သည်
နည်းကြ၏၊ ထို့ကြောင့်၊ လုပ်ဆောင်သောသူတို့
ကို၊ စပါးရိတ်စေခြင်းငှါ စပါးရှင်စေလွှတ်တော်မူ
၃ မည်အကြောင်း ဆုတောင်းကြလော့၊- သင်တို့
သွားလေလည်အရာမှာ၊ တောခွေးစုထဲသို့ သိုး
သငယ်တို့ကို စေလွှတ်သကဲ့သို့ သင်တို့ကို ငါစေ
၄ လွှတ်၏၊- ငွေအိတ်၊ လွယ်အိတ်၊ ခြေနင်းတို့ကိုမ
ဆောင်ကြနှင့်၊ လမ်း၌ သွားစဉ်တွင် အဘယ်
၅ သူကိုမှနှုတ်မဆက်ကြနှင့်၊- မည်သည့်အိမ်သို့
ဝင်သောအခါ၊ ဤအိမ်၌ မင်္ဂလာဖြစ်ပါစေသော
၆ ဟုရှေဦးစွာ ပြောကြလော့၊- ထိုအိမ်၌ မင်္ဂလာ
သား ရှိလျှင်၊ သင်တို့ မြွက်သော မင်္ဂလာ သည်
၇ တည်လိမ့်မည်၊- သို့မဟုတ်၊ သင်တို့ထံသို့ ပြန်
လာလိမ့်မည်၊ ထိုအိမ်၌နေ၍ အစားအသောက်
စီရင်ရာကို စားသောက်ကြလော့၊ အကြောင်းမူ
ကား၊ လုပ်ဆောင်သောသူသည်အခကို ခံထိုက်
ပေ၏၊ တအိမ်မှတအိမ်သို့ လှည့်လည်၍ မသွား
၈ ကြနှင့်၊- အကြင်မြို့သို့သင်တို့ဝင်၍၊ မြို့သားတို့
သည်လက်ခံ၏၊ ထိုမြို့၌သင်တို့ရှေ့မှာထည့်သမျှ
၉ ကိုစားကြလော့၊- လူနာများကိုချမ်းသာပေးကြ
လော့၊ ဘုရားသခင်၏နိုင်ငံတော်သည် သင်တို့၌
တည်ထောင်သော အချိန်နီး ပြီဟု၊ သူတို့အား
၁၀ ဟောပြောကြလော့၊- အကြင်မြို့သို့ဝင်၍မြို့သား
တို့သည် လက်မခံတဲ့၊ ထိုမြို့၏လမ်းသို့ ထွက်ပြီး
လျှင်၊ ငါတို့၌ကပ်သောသင်တို့မြို့၏မြေမှုန့်ကိုငါ
၁၁ တို့ခါထုတ်၏၊- သို့သော်လည်း၊ ဘုရားသခင်၏
နိုင်ငံတော်သည် သင်တို့၏အနီးသို့ရောက်ကြောင်း
၁၂ ကိုသိမှတ်ကြဟု၊ သူတို့အားပြောကြလော့၊- ငါ
ဆိုသည်ကား၊ နောက်ဆုံးသောနေ့၌ ထိုမြို့သည်
သောဒုံမြို့ထက်သာ၍ခံရလတ္တံ့၊
၁၃ တိုခါရာဇိန်မြို့၊ သင်သည်အမင်္ဂလာရှိ၏၊ ဗက်
ဇဲဒမြို့၊ သင်သည်အမင်္ဂလာရှိ၏၊ အကြောင်း
မူကား၊ သင်တို့တွင် ပြသောတန်ခိုးကိုတုရုမြို့နှင့်
ဇိဒုန်မြို့တို့တွင် ပြဘူးလျှင်၊ ထိုမြို့တို့သည် ရှေး
ကာလ၌ လျှော်တေအဝတ်ကိုဝတ်၍၊ ပြာထဲမှာ
၁၄ ထိုင်လျက် နောင်တရကြလိမ့်မည်၊- တရားဆုံး
ဖြတ်တော်မူသောအခါ သင်တို့သည် တုရုမြို့နှင့်
၁၅ ဇိဒုန်မြို့ထက် သာ၍ ခံရကြလတ္တံ့၊- ထိုကပေရ
နောင်မြို့၊ သင်သည် မိုဃ်းကောင်းကင်တိုင်
အောင်မြောက်စားခြင်းကို ခံရသော်လည်း၊ မရ
ဏာ နိုင်ငံတိုင်အောင် နှိမ့်ချခြင်းကို ခံရလတ္တံ့၊-
၁၆ သင်တို့၏စကားကို နားထောင်သော သူသည် ငါ
စကားကိုနားထောင်၏၊ သင်တို့ကိုပယ်သောသူ
သည် ငါ့ကိုပယ်၏၊ ငါ့ကိုပယ်သောသူသည် ငါ့ကို
စေလွှတ် တော်မူသော သူကို ပယ်သည်ဟု မိန့်
တော်မူ၏၊
၁၇ ထိုခုနစ်ကျိပ်သောတပည့်တော်တို့သည်ဝမ်း
မြောက်သော စိတ်နှင့်ပြန်လာ၍၊ အရှင်၊ ကိုယ်
တော်၏နာမအားဖြင့်အကျွန်ုပ်တို့သည် နတ်ဆိုး
၁၈ ကိုပင်နိုင်ပါသည်ဟု လျှောက်ကြ၏၊- ယေရှုက
လည်း၊ စာတန်သည်လျှပ်စစ်ကဲ့သို့ကောင်းကင်
၁၉ မှကျသည်ကိုငါမြင်ပြီ၊- သင်တို့သည်မြွေ၊ ကင်း
မြီးကောက် တို့ကို နိုင်ရသောအခွင့်နှင့်၊ ရန်သူ
များကိုနိုင်ရသောအခွင့်တန်ခိုးကိုငါပေး၏၊ သင်
၂၀ တို့ကို အဘယ်အရာမျှ မညှဉ်းဆဲရ၊- သို့သော်
လည်း၊ နတ်ဆိုးကိုနိုင်ရသောကြောင့်သာဝမ်း
မြောက်ခြင်းမရှိကြနှင့်၊ သင်တို့၏နာမည်များ
သည် ကောင်းကင်စာရင်း၌ ဝင်သည်ကို ဝမ်း
မြောက်ခြင်းရှိကြလော့ဟုမိန့်တော်မူ၏၊
၂၁ ထိုအခါယေရှုသည်ဝမ်းမြောက်တော်မူခြင်း
စိတ်ရှိသဖြင့်၊ ကောင်းကင်နှင့်မြေကြီးကိုအစိုးရ
တော်မူသော အဖ၊ ကိုယ်တော်သည် ပညာအ
သိစွာနှင့် ပြည့်စုံသော သူတို့အား ဤအရာများ
ကို ထိမ်ဝှက် ကွယ် ထား လျက် သူငယ် တို့ အား
ဖော်ပြတော်မူသည်ဖြစ်၍၊ ကျေးဇူးတော်ကိုအ
ကျွန်ုပ် ချီးမွမ်းပါ၏၊ ထိုသို့ အ လို တော် ရှိသော
၂၂ ကြောင့်မှန်ပါ၏၊ အဖ၊- ခမည်းတော်သည်ခပ်
သိမ်းသောအရာတို့ကိုငါ၌အပ်တော်မူပြီးသော

တော်ကသား၊ အဘယ်သူဖြစ်သည်ကို ခမည်းတော်
မှတပါး အဘယ်သူမျှမသိ။ ခမည်းတော်ကား၊
အဘယ်သူဖြစ်တော်မူသည်ကို၊ သားတော်နှင့်
သားတော်သည် လင်းစေလိုသောသူမှတပါး အ
၂၃ ဘယ်သူမျှ မသိဟု မိန့်တော်မူ၏။ ထိုအခါ တ
ပည့် တော်တို့ကို ဖျည့်ကြည့်၍၊ ယခု မြင်သမျှ
သော အရာတို့ကို သင်တို့ မြင်သော ကြောင့် သင်
၂၄ တို့မျက်စိသည် မင်္ဂလာရှိ၏။ ငါဆိုသည်ကား၊
သင်တို့မြင်ရသော အရာတို့ကို၊ ပရောဖက် များ
နှင့် ရှင်ဘုရင် များတို့သည် မြင်ခြင်းငှါ အလိုရှိ
သော်လည်းမမြင်ရကြ။ သင်တို့ကြားရသောအ
ရာတို့ကိုကြားခြင်းငှါအလိုရှိသော်လည်းမကြား
ရကြဟု၊တပည့်တော်တို့အားသာမိန့်တော်မူ၏။
၂၅ တရံရောအခါ ကျမ်းတတ် တယောက်သည်
ထ၍၊ အရှင်ဘုရား၊ထာဝရအသက်ကိုအမွေခံရ
ထံ့သောငှါ အကျွန်ုပ်သည် အဘယ်အမှုကိုပြုရ
ပါမည်နည်းဟု၊ကိုယ်တော်ကိုစုံစမ်းနှောင့်ရှက်
၂၆ ခြင်း ငှါ မေး လျှောက် သော်၊- ကိုယ် တော် က၊
ပညတ္တိ ကျမ်း၌ အဘယ်သို့ လာသနည်း၊ သင်
သည် အဘယ် သို့ ဖတ် သနည်း ဟု မေး တော်မူ
၂၇ လျှင်၊- ထို သူ က၊ သင် ၏ ဘုရား သခင် ထာဝရ
ဘုရားကို စိတ်နှလုံး အကြွင်းမဲ့၊ အစွမ်းသတ္တိ
ရှိသမျှ၊ ဉာဏ်ရှိသမျှနှင့် ချစ်လော့၊ ကိုယ်နှင့်
စပ်ဆိုင်သောသူကို ကိုယ်နှင့်အမျှ ချစ်လော့ဟု
၂၈ ပြန်လျှောက်လေ၏။-ကိုယ်တော်ကလည်း၊သင်
၏စကားသည်မှန်ပေ၏၊ထိုသို့ပြုလျှင်အသက်ကို
၂၉ ရမည်ဟုမိန့်တော်မူ၏။-ထိုသူကလည်း၊အဘယ်
သူသည် အကျွန်ုပ်နှင့် စပ်ဆိုင်သောသူ ဖြစ်ပါသ
နည်းဟု၊ မိမိအပြစ်မရှိဟန် ပြုလိုသောစိတ်နှင့်
၃၀ ယေရှုကို လျှောက်ပြန်သော်၊- ယေရှုက၊လူတ
ယောက်သည် ယေရုရှလင်မြို့မှ ယေရိခေါမြို့သို့
သွားရာတွင် ထားပြနှင့်တွေ့ကြုံလေ၏၊ ထားပြ
တို့သည် ထိုသူ၏ အဝတ်ကိုချွတ်၍၊ နာကြင်စွာ
ရိုက်နှက် ပြီးမှ သေလုမတတ် ရှိသော အခါ ပြစ်
၃၁ ထား၍သွားကြ၏၊-ထိုသမ်းသို့ယဇ်ပရောဟိတ်
တယောက်သည် အမှတ်တမဲ့ သွား၍၊ ထိုလူနာ
၃၂ ကိုမြင်လျှင်ဖဲ့ရှောင်၍သွားလေ၏။-ထိုနည်းတူ၊
လေဝိသူ တယောက်သည် ထိုအရပ်သို့ ရောက်
သောအခါ၊ ကာ၍ ကြည့်မြင်လျှင် ဖဲ့ ရှောင်၍
၃၃ သွားလေ၏။- ရှမာရိ လူ တယောက်သည် ခရီး
သွားရာတွင်ထိုလူနာရှိရာသို့ရောက်၍၊မြင်သော
၃၄ အခါ ကရုဏာ စိတ် ရှိသည်နှင့်၊- ချဉ်းကပ်၍
သူ၏အနာရှားကို ဆီနှင့် စပျစ်ရည် ထည့်လျက်
အဝတ်နှင့် စည်းပြီးလျှင်၊ မိမိတိရိစ္ဆာန်ပေါ်မှာ
တင်၍ ဇရပ်တခုသို့ ဆောင်သွား ပြုစု လေ၏။-
၃၅ နက်ဖန်နေ့၌ ထွက်သွားသော အခါ၊ ဒေနာရိနှစ်
ပြားကို ထုတ်၍ ဇရပ်ရှင်အားပေးလျက်၊ ဤသူ
ကိုကြည့်ရှုပြုစုပါ၊ ကုန်သမျှကိုငါပြန်လာသော
အခါ ဆပ်ပေးမည်ဟုဆို၏၊ သင်သည် အဘယ်
၃၆ သို့ထင်သနည်း။- ထိုသူသုံးယောက်တို့တွင်အ
ဘယ်သူသည် ထားပြထံသို့ ရောက်သောသူ
နှင့် စပ်ဆိုင်သောသူ ဖြစ် သနည်းဟု ပြန်၍ မေး
၃၇ တော်မူလျှင်၊- ကျမ်းတတ်ကလည်း၊ထိုနာကိုသ
နားသော သူသည် စပ်ဆိုင်သော သူဖြစ် ပါ၏ဟု
လျှောက်သော်၊ ယေရှုက၊ သင်သည်သွား၍ ထို
နည်းတူပြုလော့ဟုမိန့်တော်မူ၏။
၃၈ ယေရှုသည်တပည့်တော်တို့နှင့် ခရီးသွားကြ
စဉ် ရွာတရွာသို့ ဝင်တော်မူ၍၊ မာသ အမည်ရှိ
သောမိန်းမတဦးသည်မိမိအိမ်၌ ကိုယ်တော်ကိုဧည့်
၃၉ ခံလေ၏။- ထိုမိန်းမ၌မာရိ အမည်ရှိသောညီမ တ
ယောက် ရှိ၏၊ ထိုမာရိသည် ယေရှု၏ ခြေတော်
ရင်း၌ထိုင်၍၊ စကားတော်ကို နားထောင်လျက်
၄၀ နေ၏။- မာသမူကား၊ ထုပ်ကျွေးခြင်းအမှုများ၌
စိတ်ပူပန်ခြင်းရှိသဖြင့် အထံတော်သို့ချဉ်းကပ်
၍၊သခင်၊ ကျွန်မ၏ညီမသည်ကျွန်မတယောက်
တည်း လုပ်ကျွေးစေခြင်းငှါ ကျွန်မကို ပြစ်ထား
သည် အရာကို ထွစ်လျှူသော မိတ်ရှိတော်မူသ
လော၊ သူသည်ကျွန်မကို ကူညီမည်အကြောင်း
၄၁ အမိန့်ရှိတော်မူပါဟုလျှောက်သော်၊- ယေရှုက၊
မာသ၊မာသ၊ သင်သည် များစွာသော အမှုတို့၌
ပူးရိမ်၍ နှောင့်ရှက်ခြင်းကို ခံရ၏၊ ထိုသောအ
၄၂ ရာတခုတည်းရှိ၏။- မာရိမူကား၊ကောင်းသော
အဘို့ကို ရွေးယူပြီ၊ ထို အဘို့ကို အဘယ်သူမျှ စ
ခွတ်မယူရာဟုမိန့်တော်မူ၏။

၁၁

၁ တရံရောအခါ ကိုယ်တော်သည်တနေရာသော
အရပ်တွင်ဆုတောင်းတော်မူ၍ပြီးလျှင်၊တပည့်
တော်တယောက်က၊ သခင်၊ ဆုတောင်းစေခြင်း
ငှါယောဟန်သည်မိမိတပည့်တို့အား နည်းပေး
သကဲ့သို့၊ အကျွန်ုပ်တို့အား နည်းပေးတော်မူပါ
၂ ဟုလျှောက်သော်၊-ကိုယ်တော်က၊သင်တို့သည်
ဆုတောင်းလျှင်ဆိုရမည်မှာ၊ ကောင်းကင်
ဘုံ၌ရှိတော်မူသောအကျွန်ုပ်တို့အဘ၊ကိုယ်တော်
၏ နာမတော်အား ရိုသေလေးမြတ်ခြင်း ရှိပါစေ

၃ သော၊ နိုင်ငံတော်တည်တော်မူပါစေသော။- အ
လိုတော်သည် ကောင်းကင်ဘုံ၌ ပြည့်စုံသကဲ့သို့
မြေကြီးပေါ်မှာပြည့်စုံပါစေသော။ အသက်မွေး
သောက်သောအစာကိုအကျွန်ုပ်တို့အားနေ့ရက်
၄ အစဉ်အမြဲပေးသနားတော်မူပါ။-အကျွန်ုပ်
တို့ကို ပြစ်မှားသောသူရှိသမျှတို့၏အပြစ်ကို အ
ကျွန်ုပ်တို့သည်လွှတ်သောကြောင့်၊အကျွန်ုပ်တို့
၏ အပြစ်များကို လွှတ်တော်မူပါ။ အပြစ် သွေး
ဆောင်ရာသို့မလိုက်မပါစေဘဲ၊ မကောင်းသော
အမှုအရာမှ ထည်း ကယ် နှုတ် တော်မူပါဟု ဆု
တောင်းကြလော့ဟုမိန့်တော်မူ၏။
၅ တဖန်မိန့်တော်မူသည်ကား၊သင်တို့တွင်တစုံ
တယောက်သောသူ၌ အဆွေခင်ပွန်းရှိသည်ဖြစ်
၍၊ သန်းခေါင်အချိန်တွင်၊ ထိုအဆွေ ခင်ပွန်း၏
၆ အိမ်သို့သွားပြီးလျှင်၊အဆွေ၊- အကျွန်ုပ်အဆွေ
ခင်ပွန်းတယောက်သည်ခရီးမှလာ၍၊အကျွန်ုပ်
ထံသို့ ရောက်ပါပြီ။ သူကို ကျွေးစရာ မရှိ သော
၇ ကြောင့်မုန့်သုံးလုံးချေးနှင့်ပါဟုဆိုသော်၊-အိမ်
ရှင်ကလည်း၊ ငါကိုမနှောင့်ရှက်နှင့်၊ တံခါးပိတ်
လျက်ရှိ၏။ သားသွီးတို့သည်ငါနှင့်အိပ်လျက်
ရှိကြ၏။ ငါထ၍သင့်အားမပေးနိုင်ဟု၊ အိမ်ထဲ
၈ မှပြန်ပြောသည်အရာမှာ၊-ငါဆိုသည်ကား၊အ
ဆွေခင်ပွန်းဖြစ်သည်ကို ထောက်၍ မထ၊ မပေး
သော်လည်း၊အားမဲ့လျှော့ဘဲတောင်း၍နေသော
၉ ကြောင့် ထ၍လိုချင်သမျှကိုပေးလိမ့်မည်။- တ
ဖန်ငါဆိုသည်ကား၊တောင်းကြလော့။တောင်း
လျှင်ရမည်။ရှာကြလော့။ရှာလျှင်တွေ့မည်။ တံ
ခါးကိုခေါက်ကြလော့။ ခေါက်လျှင် ဖွင့်မည်။-
၁၀ တောင်းသောသူမည်သည်ကားရ၏။ ရှာသော
သူလည်းတွေ့၏။ခေါက်သောသူအားလည်းတံခါး
၁၁ ကို ဖွင့်၏။- သင်တို့တွင် အဘဖြစ်သောသူ၌သား
သည် မုန့်ကိုတောင်းလျှင်၊ အဘသည်ကျောက်
ကို ပေးမည်လော။ ငါးကို တောင်းလျှင်၊ ငါးအ
၁၂ စား၌မြွေကိုပေးမည်လော။-ဥကိုတောင်းလျှင်၊
၁၃ ကင်းမြီးကောက်ကို ပေး မည် လော။- သင် တို့
သည် အဆိုးဖြစ်လျက်ပင် ကိုယ်သားတို့အား
ကောင်းသော အရာကို ပေး တတ်လျှင်၊ ထိုမျှမ
က၊ ကောင်းကင်ဘုံ၌ရှိတော်မူသောသင်တို့အဘ
သည်ဆုတောင်းသောသူတို့အား သန့်ရှင်းသော
ဝိညာဉ်တော်ကို သာ၍ပေးတော်မူမည် မဟုတ်
သောဟုမိန့်တော်မူ၏။
၁၄ တရံရောအခါ စကား အ သော နတ်ဆိုးကိုနှင်
ထုတ်တော်မူ၍၊ နတ်ဆိုး ထွက်သည်နောက် အ
သောသူသည် စကားပြော၏။ အစုအဝေးတို့သည်
၁၅ ထည်းအံ့ဩကြ၏။- အချို့ တို့က၊ ဤသူသည်
နတ်ဆိုးမင်းဗေလဇေဗုလကို အမှီပြု၍ နတ်ဆိုး
၁၆ တို့ကိုနှင်ထုတ်သည်ဟု ဆိုကြ၏။-အချို့ တို့သည်
လည်း၊ စုံစမ်းနှောင့်ရှက်ခြင်းငှါမိုဃ်းကောင်း
ကင်ကဖြစ်သောနိမိတ်လက္ခဏာကိုတောင်းကြ
၁၇ ၏။- ထိုသူတို့၏ စိတ်ကို သိတော်မူသည်ဖြစ်၍၊
ထိုင်းနိုင်ငံမည်သည်ကား၊မိမိနှင့်မသင့်မတင့်ကွဲ
ပြားလျှင်၊ပျက်စီးခြင်းသို့ရောက်လိမ့်မည်။ အိမ်
မည်သည်ကား၊ မိမိနှင့်မသင့်မတင့်ကွဲပြားလျှင်
၁၈ ထဲလိမ့်မည်။- ငါသည်ဗေလဇေဗုလကို အမှီပြု
၍ နတ်ဆိုးတို့ကို နှင်ထုတ်သည်ဟု၊ သင်တို့ဆို
သည်အတိုင်း စာတန်သည် မိမိနှင့် မသင့်မတင့်
ကွဲပြားလျှင်၊ သူ၏နိုင်ငံသည် အဘယ်သို့ တည်
၁၉ နိုင်မည်နည်း။- ငါသည်ဗေလဇေဗုလကိုအမှီ
ပြု၍ နတ်ဆိုးတို့ကိုနှင်ထုတ်သည်မှန်လျှင်၊ သင်
တို့၏သားတို့သည် အဘယ်သူကို အမှီပြု၍ နှင်
ထုတ်ကြသနည်း။ထိုကြောင့်၊သူတို့သည်သင်တို့
၂၀ အားတရားစီရင်သောသူ ဖြစ်ကြလိမ့်မည်။- ငါ
သည် ဘုရားသခင်၏ လက်ညှိုး တော်အားဖြင့်
နတ်ဆိုးတို့ကို နှင်ထုတ်သည်မှန် လျှင်၊ အကယ်
စင်စစ်သင်တို့၌ ဘုရားသခင်၏ နိုင်ငံတော်တည်
၂၁ မှီရောက်လေပြီ။- သူရဲသည် လက်နက် စုံနှင့်
မိမိအိမ်ဦး၌ စောင့်နေစဉ်အခါ သူ၏ ဥစ္စာသည်
၂၂ လုံချုံစွာရှိ၏။- သူထက် တတ်စွမ်း နိုင်သော သူ
သည်လာ၍သူကိုအောင်ပြီးမှ၊ သူကိုးစားသော
လက်နက်စုံကို သိမ်းယူ၍၊ ဥစ္စာ ပရိက်များကို
၂၃ ဝေလိမ့်မည်။- ငါဘက်၌မနေသောသူသည်ငါရန်
ဘက်ဖြစ်၏။ငါနှင့်အတူမစုမသိမ်းသောသူသည်
ကြဲဖြန့်သောသူဖြစ်၏။
၂၄ ညစ်ညူးသောနတ်သည် လူထဲက ထွက်လျှင်၊
ခြောက်ကပ်သောအရပ်တို့၌လည်၍ ငြိမ်သက်
ခြင်းကိုရှာတတ်၏။မတွေ့လျှင်၊ ငါသည်ထွက်ခဲ့
၂၅ သောနေရာအိမ်သို့ပြန်ရဦးမည်ဟုဆို၍၊ ရောက်
သော အခါ၊ ထိုအိမ် သည် သုတ် သင် မှုန် ဆင်
၂၆ လျက်ရှိသည်ကိုတွေ့သော်၊-မိမိထက်သာ၍ညစ်
ညူးသောနတ်ဆိုးခုနစ်ယောက်ကိုခေါ်ပြီးလျှင်
ထိုလူထဲသို့ ဝင်၍နေကြ၏။ ထိုလူ၏ နောက်ဖြစ်
ဟန်သည်ရှေ့ဖြစ်ဟန်ထက် သာ၍ ဆိုးသည်ဟု
မိန့်တော်မူ၏။
၂၇ ထိုသို့မိန့်တော်မူစဉ်တွင်မိမ္မတယောက်သည်

လူအစုအဝေး၊ ထဲကခေါ်၍၊ ကိုယ်တော်ကိုလွယ်
သောဝမ်းနှင့် နို့တော်မှုသော သမြတ်သည် မင်္ဂ
၂၈ လာရှိပါ၏ဟု လျှောက်လျှင်၊- ကိုယ် တော်က၊
ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို နာ၍
ကျင့်စောင့်သောသူသည်မြတ်စွာသောမင်္ဂလာရှိ
သည်ဟုမိန့်တော်မူ၏။
၂၉ လူ အစု အဝေး တို့သည် ထူထပ်လျက် ရှိကြ
သောအခါ ကိုယ်တော်က၊ ဤလူမျိုးသည် ဆိုး
ညစ် သော အမျိုး ဖြစ် ၏။ နိမိတ် လက္ခဏာ ကို
တောင်းသည်မှာပရောဖက်ယောနနိမိတ်လက္ခ
ဏာမှတပါးအဘယ်လက္ခဏာကိုမျှသူတို့အား
၃၀ ပမြရ။- ယောနသည် နိနေဝေမြို့သားတို့အား
နိမိတ် လက္ခဏာ ဖြစ်သကဲ့သို့ လူသားသည် ဤ
၃၁ လူမျိုးအား၊ ဖြစ်လိမ့်မည်။-တရားဆုံးဖြတ်တော်
မူသောအခါ၊ တောင်ပြည်ကိုအစိုးရသောမိဖုရား
သည် ဤလူမျိုးတဖက်၌ ထ၍ အရှုံးခံစေလတံ့၊
အကြောင်းမူကား၊ ထိုမိဖုရားသည် ရှောလမုန်
မင်းကြီး၏ပညာစကားကိုနားထောင်ခြင်းငှါမြေ
ကြီးစွန်းမှ လာ၏။ ဤအရပ်၌ကား၊ ရှောလမုန်
၃၂ ထက်သာ၍ ကြီးမြတ်သောသူရှိ၏။- တရားဆုံး
ဖြတ်တော်မူသောအခါနိနေဝေမြို့သားတို့သည်
ဤ လူ မျိုး တဖက် ၌ ထ၍ အရှုံး ခံစေလတံ့၊ အ
ကြောင်း မူကား၊ ထိုသူတို့ သည် ယောန ဟော
၃၃ ပြောသောစကားကြောင့် နောင်တရကြ၏။- ဤ
အရပ်၌ကား၊ယောနထက်သာ၍ကြီးမြတ်သော
သူရှိ၏။ ဆီမီးထွန်း၍ ကွယ်ရာ၌ ဖုံးထားလေ့မ
ရှိ။ တောင်းဇလားအောက်၌လည်း ထားလေ့မ
ရှိ။ဝင်လာသောသူသည်အလင်းကိုရစေခြင်းငှါ
၃၄ ဆီမီးခုံအပေါ်မှာတင်ထားလေ့ရှိ၏။ ကိုယ်၏ဆီ
မီးကားမျက်စိတည်း။ ထိုကြောင့်၊မျက်စိကြည်
လင်သောအခါတကိုယ်လုံးလင်းလိမ့်မည်။မျက်
စိ မြေး ရှက် သော အခါ တကိုယ် လုံး မိုက် လိမ့်
၃၅ မည်။- ကိုယ်၌ရှိသောအလင်းကို မှောင်မိုက်မ
၃၆ ဖြစ်စေခြင်းငှါ သတိပြုလော့။- အင်္ဂါ တခုမျှ မ
မိုက်ဘဲတကိုယ်လုံးလင်းလျှင်၊ဆီမီး၏အရောင်
နှင့် လင်းစေသကဲ့သို့ လုံးလုံးလင်းလျက် ရှိလိမ့်
မည်ဟုမိန့်တော်မူ၏။
၃၇ ထိုသို့ မိန့်တော်မူစည်တွင် ဖာရိရှဲတယောက်
သည်အစာကိုသုံးဆောင်တော်မူစေခြင်းငှါကိုယ်
တော်ကိုခေါ်ပင့်လျှင်၊သူ၏အိမ်သို့ကြွ၍ စားပွဲ၌
၃၈ လျောင်းတော်မူ၏။- အစာကိုမစားမှီ နှစ်ခြင်းကို
ပြုတော်မမူသည်ကိုထိုဖာရိရှဲသည်မြင်လျှင်အံ့

၃၉ သြလေ၏၊- သခင်ဘုရားကလည်း၊ ဖာရိရှဲ
ဖြစ်သောသင်တို့သည်ဖလား၊ ထင်ပန်းကိုအပြင်
၌ဆေးကြောကြ၏၊ အတွင်း၌ကား လုယူခြင်း။
၄၀ ဆိုးညစ်ခြင်းနှင့်ပြည့်လျက်ရှိ၏။- လူမိုက်တို့၊ အပ
ပြင်ကိုဖန်ဆင်းသောသူသည် အတွင်းကိုလည်း
၄၁ ဖန် ဆင်း တော် မူ သည် မဟုတ် လော။- သာ၍
ကောင်း သော နည်း မူကား၊ တတ် နိုင် သမျှ အ
တိုင်းဆင်းရဲသားတို့အား စွန့်ကြကြလော့၊ ထို
ပြုလျှင်၊ ခပ်သိမ်း သော အရာတို့သည် သင် တို့
၄၂ အားသန့်ရှင်းကြလိမ့်မည်။- ဖာရိရှဲတို့၊ သင်တို့
သည်အမင်္ဂလာရှိကြ၏၊အကြောင်းမူကား၊ ပင်
စိမ်းရွက်၊လျှော်ရွက်မျိုးမှစ၍၊ မြက်ပင်အမျိုးမျိုး
ကိုဆယ်ဖို့တဖို့လှူကြသည်တွင်၊ တရားသဖြင့်စီ
ရင်ခြင်း၊ ဘုရားသခင်ကို ချစ်ခြင်း အမှုကိုကား
လျှပ်၍ထားကြ၏။ အရင်ဆိုသောအရာတို့ကို မ
လျှပ်မထား၊ နောက်ဆိုသောအရာတို့ကိုကျင့်ရ
၄၃ မည်။- ဖာရိရှဲတို့၊သင်တို့သည် အမင်္ဂလာရှိကြ
၏၊ အကြောင်းမူကား၊ တရား ဇရပ်၌ မြင့်မြတ်
သောနေရာထိုင်ရာကိုရင်၊ ဈေး၌ ရှိသေစွာ နှုတ်
၄၄ ဆက်ခြင်းကိုရင် နှစ်သက်ကြ၏။- သင်တို့သည်
အမင်္ဂလာရှိကြ၏၊အကြောင်းမူကား၊မထင်ရှား
သော သင်းချိုင်းတွင်းနှင့် တူကြ၏။ ထိုတွင်း အ
ပေါ်မှာ သွား လာ သော သူတို့သည် သင်း ချိုင်း
တွင်းရှိမှန်းကိုမျှမသိကြဟုမိန့်တော်မူ၏။
၄၅ ကျမ်းတတ်တယောက်ကလည်း၊ အရှင်ဘုရား၊
ထိုသို့ဆိုလျှင်အကျွန်ုပ်တို့ကိုပင်ကဲ့ရဲ့အပြစ်တင်
၄၆ တော်မူ၏ဟုလျှောက်သော်၊-ကျမ်းတတ်တို့၊ သင်
တို့သည်အမင်္ဂလာ ရှိကြ၏။ အကြောင်းမူကား၊
ထမ်း ခဲ သော ဝန် ကို သူ တပါး အပေါ်မှာ တင်
၄၇ တတ်၏။- ကိုယ်လက်ဖျားနှင့်မျှမထိကြ။သင်တို့
သည် အမင်္ဂလာ ရှိကြ ၏၊ အကြောင်း မူ ကား၊
ပရောဖက်တို့၏ သင်းချိုင်းများကိုတည်လုပ်၍၊
သင်တို့၏ ဘိုးဘေးများ သည် သူ တို့ကိုသတ်ကြ
၄၈ ၏။- အကယ်စင်စစ် သင်တို့သည် ဘိုးဘေးတို့၏
အပြု အမူ ကို သက်သေခံကြ၏။ ဘိုးဘေး တို့ သည်
ပရောဖက် များကို သတ်ကြပြီ။ သင်တို့ မူ ကား၊
သင်းချိုင်းတို့ကိုတည်လုပ်ကြ၏။
၄၉ ထိုကြောင့်၊ ဘုရားသခင်၏ညာဏ်စီရင်တော်
မူသည်ကား၊ ပရောဖက်၊တမန်တော်တို့ကိုသူတို့
ရှိရာသို့ ငါစေလွှတ်မည်။ သူတို့သည် ထိုပရော
ဖက်၊ တမန်တော်အချို့ တို့ကို ညှဉ်းဆဲကြလိမ့်
၅၀ မည်။အချို့တို့ကိုသတ်ကြလိမ့်မည်။-ထိုကြောင့်၊



 

အာဗေလ၏အသွေးမှစ၍၊ ယဇ်ပလ္လင်နှင့် ဗိမာန်
တော်၏အကြား၌ သတ်နှဲ့ပြီးသော ဇာခရိ၏ အ
သွေးတိုင်အောင်ကမ္ဘာဦးမှစ၍၊ သွန်းပြီးသော
ပရောဖက်အပေါင်း၊ တို့၏ အသွေးကြောင့် ယခု
ဖြစ်သော လူ တို့ သည် စစ်ကြော ခြင်းကို ခံရကြ
၅၁ မည်။-ငါအမှန်ဆိုသည်ကား၊ ယခုဖြစ်သောလူ
တို့သည်ထိုစစ်ကြောခြင်းကိုခံရကြမည်။
၅၂ ကျမ်းတတ်တို့၊ သင်တို့သည် အမင်္ဂလာရှိကြ
၏။ အကြောင်းမူကား၊ ပညာဖွင့်သော သော့ကို
သိမ်းထားကြပြီ။ မိမိ တို့ ထည်း မဝင်၊ ဝင်လို
သောသူတို့ကို ထည်း ဆီးတားကြသည်ဟု မိန့်
၅၃ တော်မူ၏။- ထိုသို့ပရိသတ်တို့အားမိန့်တော်မူ
စဉ်တွင်ကျမ်းပြုဆရာနှင့်ဖာရိရှဲတို့သည် ကိုယ်
တော်၌ အပြစ် တင် ခွင့်ကို ရမည် အကြောင်း၊-
၅၄ ချောင်း မြောင်းလျက်၊ နှုတ်တော်ကို ဖမ်းခြင်း
ငှါ ရှာကြံလျက်၊ ကြပ်ကြပ် ထိုးထွင်း၍ အရာ
ရာတို့၌မေးစစ်ကြ၏။

၁၂

၁ ထိုအခါအတိုင်းမသိများစွာသောလူ တို့သည်
စုဝေး၍ အချင်းချင်း နင်းမိမတတ် နေကြသည် မှ
သော်၊ ယေရှုသည် တပည့် တော် တို့ အား မိန့်
တော်မူသည်ကား၊ လျှို့ဝှက်ခြင်းတည်းဟူသော
ဖာရိရှဲတို့၏တဆေးကိုရှေးဦးစွာကြည့်ရှောင်ကြ
၂ လော့။- ဖုံးထားလျက် မှုသမျှတို့သည် ဖွင့် လိမ့်
မည်။ဆိတ်ကွယ်ရာ၌ရှိသမျှတို့သည်လည်းထင်
၃ ရှားလိမ့်မည်။- မှောင်မိုက်၌ သင်တို့ ပြောသမျှ
သောအရာများကို သူတပါးတို့သည် ယံထင်း၌
နားကြားကြလိမ့်မည်။ သင်တို့သည် အခန်းထဲမှာ
နားအပါး၌ ပြောသောအရာများကို အိမ်မိုးပေါ်
၄ မှာ ထုတ်ကြော်ကြလိမ့်မည်။- ငါ့အဆွေတို့၊ သင်
တို့အားငါ ဆိုသည်ကား၊ ကိုယ်ခန္ဓာကိုသတ်၍
နောက် တဖန် အလျှင်း မပြုနိုင်သောသူတို့ကို မ
၅ ကြောက်ကြနှင့်။- အဘယ်သူကိုကြောက်ရမည်
နည်းဟူမူကား၊ ကိုယ်ခန္ဓာကို သတ်ပြီးမှငရဲ ထဲ
သို့ ချနိုင်သောသူကိုကြောက်ကြလော့။ငါအမှန်
ဆိုသည်ကား၊ ထိုသူကို ကြောက် ကြ လော့။-
၆ စာငှက်ငါးကောင်ကို အသပြာနှစ်ပြားအဘိုးနှင့်
ဝယ်ရသည်မဟုတ်လော။ ထိုစာငှက်တကောင်
၇ ကိုမျှ ဘုရားသခင် မေ့လျော့ တော်မမူ။- သင်တို့
ဆံပင်သည်လည်း၊ အကုန်အစင်ရေတွက်လျက်
ရှိ၏။ ထိုကြောင့်၊ မကြောက်ကြနှင့်။ သင်တို့သည်
စာငှက်အများထက်ထာ၍မြတ်ကြ၏။

၈ ငါဆိုသည်ကား၊ အကြင်သူသည်လူတို့ရှေ့မှာ
ငါ့ကိုဝန်ခံသော်၊ ဘုရားသခင်၏ ကောင်းကင်တမန်
၉ တို့ရှေ့မှာ လူသားသည် ထိုသူကိုဝန်ခံမည်။- အ
ကြင် သူ သည် လူတို့ ရှေ့ မှာ ငါ့ ကို ငြင်း ပယ် သော်၊
ဘုရားသခင်၏ ကောင်း ကင်တမန်တို့ ရှေ့မှာ ထို
၁၀ သူကိုငါငြင်းပယ်မည်။- လူသားကိုရှုတ်ချ ပြစ်
မှားသောသူမည်သည်ကား၊ အပြစ်နှင့် လွတ်စေ
ခြင်း အခွင့်ကို ရနိုင်၏။ သန့်ရှင်း သော ဝိညာဉ်
တော်ကိုကဲ့ရဲ့သောသူမည်သည်ကား၊အပြစ်နှင့်
၁၁ လွတ်စေခြင်း အခွင့် ကို မရ နိုင်ရာ။- သင်တို့ကို
တရားဇရပ်သို့၎င်း၊ အကဲအမှူးမင်းများရှေ့သို့
၎င်းပို့ဆောင်ကြသောအခါ အဘယ်သို့ပြန်ပြော
၁၂ ရမည်ကိုမစိုးရိမ်ကြနှင့်။-အကြောင်းမူကား၊ထို
အခါ ခဏ်းတွင် အဘယ်သို့ ပြော ရမည်ကို သန့်
ရှင်းသော ဝိညာဉ်တော်သည် အကြံပေးမည်ဟု
မိန့်တော်မူ၏။

၁၃ လူအစုအဝေး၌ ပါသောသူတယောက်က၊ အ
ရှင်ဘုရား၊ အကျွန်ုပ်အစ်ကိုသည်အမွေဥစ္စာကို
အကျွန်ုပ်အား ဝေပေးပါမည့်အကြောင်း မိန့်မှာ
၁၄ တော်မူပါဟုလျှောက်လျှင်၊- ကိုယ်တော်က၊အ
ချင်းလူ၊ အဘယ်သူသည်သင်တို့အမှုကို စီရင်၍
ဝေပိုင်သော အခွင့်ကို ငါ့အား အပ်ပေး သနည်း
၁၅ ဟု မေး တော် မူ၏။- ထိုမှတပါး လောဘ လွန်
ကျူးခြင်းကိုသတိနှင့်ကြည့်ရှောင်ကြလော့။ အ
ကြောင်းမူကား၊ စည်းစိမ်ရှိသော်လည်း၊ စည်း
စိမ်၌အသက်မတည်ဟုမိန့်တော်မူ၏။

၁၆ တနည်းဥပမာစကားကို မိန့်တော်မူသည်ကား၊
သူဌေးတဦး၌မြေကောင်း၍ အသီးအနှံ များ လှ
၁၇ ၏။- ထိုသူက ငါသည်အဘယ်သို့ပြုရမည်
နည်း။ အသီးအနှံ များကို ထားစရာ တရပ်မျှ
၁၈ မရှိ။- ပြုမည်အကြံမူကား၊ ငါ့ကျီများကို ဖျက်၍
ကျယ်သောကျီတို့ကိုတည်ပြီးမှ၊ ငါ၏အသီးအ
၁၉ နှံဥစ္စာရှိသမျှတို့ကိုသိုထားမည်။- ငါ့ဝိညာဉ်အား
လည်း၊ အချင်းဝိညာဉ်၊ သင်သည်နှစ်ပေါင်းများ
စွာတို့ကောင်းရန်ဥစ္စာများကိုသိုထားလျက်ရှိပြီ။
ငြိမ်ဝပ်ခြင်းနေလော့၊ စားသောက်ခြင်း၊ ပျော်မွေ့
ခြင်းကိုပြုလော့၊ ငါပြောမည်ဟု၊ သူဌေးအကြံရှိ
၂၀ ၏။-ထိုသို့အကြံရှိစဉ်တွင်ဘုရားသခင်က၊အချင်း
လူမိုက်၊ ယနေ့ညဉ့်ပင်သင်၏ဝိညာဉ်ကိုရုပ်သိမ်း
ရာအချိန်ရောက်လိမ့်မည်။ သို့ဖြစ်၍၊သင်သည်
စုဆောင်းသိုထားသော ဥစ္စာ ကို အဘယ်သူ ပိုင်
၂၁ မည်နည်း၊ဟု သူဌေးအား မိန့်တော်မူ၏။- ထိုနည်း

ထူ၊ ကိုယ်အဖို့ဘဏ္ဍာများကိုဆည်းပူး၍၊ ဘုရား
သခင်ရှေ့တော်၌ ဆင်းရဲသောသူမည်သည်
ကား၊ ထိုသူနှင့်တူသည်ဟုမိန့်တော်မူ၏။
၂၂ တပည့်တော်တို့အား မိန့်တော်မူသည်
ကား၊ ထို့ကြောင့်၊ သင်တို့သည်အဘယ်သို့စားရ
မည်ဟူ၍၊ အသက်အဖို့မစိုးရိမ်ကြနှင့်၊ အဘယ်
သို့ဝတ်ရမည်ဟူ၍၊ ကိုယ်အဖို့မစိုးရိမ်ကြနှင့်
၂၃ ဟုငါဆို၏။- အစာထက် အသက်မြတ်သည် မ
ဟုတ်သလော။ အဝတ်ထက် ကိုယ်မြတ်သည်မ
၂၄ ဟုတ်သလော။- ကျီးကန်းများကိုကြည့်ရှုဆင်ခြင်
ကြလော့။ ထိုငှက်တို့သည်မျိုးစေ့ကိုမစိုက်မကြဲ၊
စပါးကိုမရိတ်၊ စပါးကျီမရှိ၊ ဘဏ္ဍာတိုက်မရှိ၊
သို့သော်လည်း၊ ဘုရားသခင်သည်သူတို့ကိုကျွေး
မွေးတော်မူ၏။ ထိုငှက်တို့ထက် သင်တို့သည်အ
၂၅ လွန်မြတ်သည်မဟုတ်သလော။- အဘယ်သူသည်
စိုးရိမ်ခြင်းအားဖြင့် မိမိအသက်တာကို တ
၂၆ တောင်ခန့်မျှ တိုးပွားစေနိုင်သနည်း။- ထိုသို့အ
ငယ်ဆုံးသော အမှုကိုမျှ မတတ်နိုင်လျှင်၊ ကြွင်း
သော အမှုကို အဘယ်ကြောင့် စိုးရိမ်ကြသ
၂၇ နည်း။- နှင်းပင်တို့သည် အဘယ်သို့သော အား
ဖြင့်ကြီးပွားသည်ကိုကြည့်ရှုဆင်ခြင်ကြလော့။
ထိုအပင်တို့သည် အလုပ်လည်းမလုပ်၊ ချည်ဖြစ်
စေခြင်းငှါမငင်မဝင့်။ သို့သော်လည်း၊ ဘုန်းကြီး
သောရှောလမုန်မင်းကြီးအဝတ်သည် ထိုအပင်
၂၈ တပင်မျှ၏အဝတ်ကိုမမှီဟု ငါဆို၏။- ယုံကြည်
အားနည်းသောသူတို့၊ ယနေ့အသက်ရှင်လျက်၊
နက်ဖြန်မီးဖိုထဲသို့ရောက်သောတောမြက်ပင်ကို
ဘုရားသခင်သည် ထိုသို့သော အဝတ်နှင့် ဝုံး
လွှမ်းတော်မူလျှင်၊ ထိုမျှမက သင်တို့ကို အဝတ်
၂၉ နှင့် ဝုံးလွှမ်းတော်မူမည် မဟုတ်သလော။- ထို
ကြောင့်၊ အဘယ်သို့စားရအံ့နည်း၊ အဘယ်သို့
သောက်ရအံ့နည်းဟူ၍ မရှာဖွေကြနှင့်။ သော
၃၀ ကမွေ့နှောက်ခြင်းလည်းမရှိကြနှင့်။- ထိုအရာ
များကို လောကီသားအမျိုးမျိုးတို့သည် ရှာဖွေ
တတ်ကြ၏။ ထိုအရာများကိုသင်တို့သည်အသုံး
၃၁ လိုကြောင်းကိုသင်တို့အဘသိတော်မူ၏။- သင်တို့
မူကား၊ ဘုရားသခင်၏နိုင်ငံတော်ကိုရှာကြလော့။
နောက်မှ၊ ထိုအရာများကို ထပ်၍ ပေးတော်မူ
၃၂ လတံ့။- သိုးစုငယ်၊ သင်တို့သည်မကြောက်ကြ
နှင့်။ သင်တို့အဘသည် သင်တို့အား နိုင်ငံကိုပေး
၃၃ ခြင်းငှါ အလိုရှိတော်မူ၏။- သင်တို့ဥစ္စာများကို
ရောင်း၍ဆင်းရဲသားတို့အား ပေးကြလော့။ မ
ဆွေးမဟောင်းတတ်သောအိတ်တို့ကိုကိုယ်ထံ
၌လုပ်ကြလော့။ သူခိုးမရောက်၊ ပိုးရွအဖျက်
ဆီးရာမနေရ၊ ကောင်းကင်ဘုံ၌ ကုန်မဆုံးနိုင်
၃၄ သောဘဏ္ဍာကိုဆည်းပူးကြလော့။- အကြောင်း
မူကား၊ အကြင်အရပ်၌သင်တို့၏ဘဏ္ဍာရှိ၏။ ထို
အရပ်သို့သင်တို့စိတ်နှလုံးရောက်လတံ့။
၃၅ သင်တို့သည်ခါးပန်းစည်းလျက်၊ ဆီမီးထွန်း
၃၆ လျက်နေသဖြင့်၊- သခင်သည်မင်္ဂလာဆောင်ပွဲမှ
ပြန်လာ၍ တံခါးကိုခေါက်သောအခါ ချက်ချင်း
ဖွင့်ခြင်းငှါ၊ သခင်လာမည်ကို မျှော်လင့်၍ နေ
၃၇ သောကျွန်ကဲ့သို့ ရှိနေကြလော့။- အကြင်ကျွန်
တို့သည် စောင့်လျက်နေသည်ကိုသခင်သည်ပြန်
လာ၍ တွေ့၏၊ ထိုကျွန်တို့သည် မင်္ဂလာရှိကြ၏။
ငါအမှန်ဆိုသည်ကား၊ သခင်သည်ခါးပန်းစည်း
လျက်ကျွန်တို့ကိုစားပွဲ၌လျောင်းစေပြီးမှ၊ ကိုယ်
၃၈ တိုင်လာ၍သူတို့အားလုပ်ကျွေးလိမ့်မည်။- နှစ်
ချက်တီး အချိန်ဖြစ်စေ၊ သုံးချက်တီး အချိန် ဖြစ်
စေ၊ သခင်သည်လာ၍ထိုသို့တွေ့လျှင်၊ ထိုကျွန်တို့
၃၉ သည်မင်္ဂလာရှိကြ၏။- အိမ်ရှင်သည် သူခိုးလာ
မည့်အချိန်နာရီကိုသိရလျှင်၊ မိမိအိမ်ကိုမထွင်း
မဖောက်စေခြင်းငှါစောင့်နေလိမ့်မည်ကိုသင်တို့
၄၀ သိကြ၏။- ထို့ကြောင့်၊ သင်တို့သည် အသင့်
လျက်နေကြလော့။ အကြောင်းမူကား၊ သင်တို့မ
ထင်မမှတ်သော အချိန်၌ လူသားသည် ကြွလာ
လိမ့်မည်ဟု မိန့်တော်မူ၏။
၄၁ ပေတရုကလည်း၊ သခင်၊ ဤဥပမာကိုအကျွန်ုပ်
တို့အားသာမိန့်တော်မူသလော၊ လူအပေါင်းတို့
အားမိန့်တော်မူသလောဟုမေးလျှောက်လျှင်၊-
၄၂ သခင်ဘုရားက၊ အိမ်ရှင်သည် မိမိအိမ်သားတို့
အား အချိန်တန်လျှင်၊ အစားအစာကိုဝေမျှ
ဝေဖန် စေခြင်းငှါ အထုပ်အချုပ် ခန့် ထား၍၊
သစ္စာနှင့်ရှင်၊ သတိပညာနှင့်ရှင် ဖြစ်သော
၄၃ ကျွန်ကား အဘယ်သူနည်း။- အကြင်ကျွန်သည်
ဤသို့ပြုလျက်နေသည်ကို အရှင်သည်ပြန်လာ၍
၄၄ တွေ့၏၊ ထိုကျွန်သည်မင်္ဂလာရှိ၏။- ငါအမှန်ဆို
သည်ကား၊ အရှင်သည်မိမိဥစ္စာရှိသမျှတို့ကို ထို
၄၅ ကျွန်၌အပ်လိမ့်မည်။- သို့မဟုတ်မူကား၊ အကြင်
ကျွန်က၊ ငါ့အရှင်လာခဲ့လိမ့်မည်ဟု၊ မိမိစိတ်၌
အောင်းမေ့သည်နှင့် ကျွန်ယောကျ်ားမိန်းမတို့
ကို ရိုက်ပုတ်လျက်၊ စားသောက်ယစ်မူးလျက်
၄၆ နေ၏။- ထိုကျွန်မကြည့်မမျှော်သောနေ့ရက်၊ မ
ကြားမသိသောအချိန်နာရီ၌သခင်သည်ရောက်

ထားလျှင်၊ ထိုကျွန်ကို ပြင်းစွာ ရိုက်ကြိမ်ကျက်၍၊
၄၇ ထစ္စာမရှိသောသူတို့နှင့်တကွနေရာချထတော့။- အ
ကြောင်းကျွန်သည်မိမိသခင်၏အလိုကိုသိလျက်နှင့်
အသင့်မနေ၊ သခင်၏အလိုကိုမဆောင်၊ ထိုကျွန်
၄၈ သည် များစွာသော ဒဏ်ကိုခံရ၏။- သခင်၏အ
လိုကို မသိဘဲလျက်၊ ဒဏ်ခံထိုက်သော အမှုကို
ပြုမိသောသူမူကား။ အနည်းငယ်သောဒဏ်ကို
သာခံရ၏။ အကြောင်းသူသည် များစွာသော ကျေး
ဇူးကိုခံ၏၊ ထိုသူသည် အများကို တောင်းရ၏။ အ
ကြောင်းသူ၌ များစွာသော ဥစ္စာကိုအပ်နှင်း၏၊ ထို
သူကိုများစွာတောင်းလိမ့်မည်။
၄၉ မြေပေါ်၌ မီး လောင် စေ ခြင်း ငှါ ငါ လာ သ
တည်း။ထိုမီးမညှိမှီထိုင်အောင်ငါ၏အလိုမပြည့်
၅၀ စုံ။ နှစ်ခြင်းတခုကိုလည်း ငါခံစရာရှိ၏။- ထိုနှစ်
ခြင်းကိုမခံမှီထိုင်အောင်ငါသည်အလွန်ညီးငွေ့
၅၁ သောစိတ်ရှိ၏။-မြေပေါ်၌ငြိမ်သက်ခြင်းကိုပေး
အံ့သောငှါ ငါလာသည်ဟုထင်ကြသလော။ ထို
သို့သောအလိုငှါ ငါလာသည် မဟုတ်။ အချင်း
ချင်းကွဲပြားစေခြင်းငှါ ငါလာသည်ဟုငါဆို၏။-
၅၂ အဘယ်သို့နည်း ဟူမူကား။ ယခုမှစ၍ အိမ်တ
အိမ် ၌ နေ သော လူ ငါး ယောက် တို့ သည် နှစ်
ယောက်တစု၊ သုံးယောက်တစု အချင်းချင်းကွဲ
၅၃ ပြား လိမ့်မည်။- အဖ နှင့် သား၊ အမိ နှင့် သမီး၊
ယောက္ခမနှင့်ချွေးမ အချင်းချင်းကွဲပြားလိမ့်မည်
ဟုမိန့်တော်မူ၏။
၅၄ တဖန်လူအစုအဝေးတို့အားမိန့်တော်မူသည်
ကား၊သင်တို့သည်အနောက်မျက်နှာ၌မိုဃ်းရိပ်
တက်သည်ကို မြင်သောအခါ၊ မိုဃ်းရွာမည်ဟု
ချက်ချင်း ဆို တတ်၏။ ဆိုသည် အတိုင်း လည်း
၅၅ ဖြစ်တတ်၏။-တောင်လေလာသည်ကိုမြင်သော
အခါ၊နေပူမည်ဟု ဆိုတတ်၏။ ဆိုသည်အတိုင်း
၅၆ လည်းဖြစ်တတ်၏။-လျှို့ဝှက်သောသူတို့၊ သင်တို့
သည်မြေကြီး၏မျက်နှာနှင့်မိုဃ်းကောင်းကင်၏
မျက်နှာကို ပိုင်းခြား၍ သိနိုင်ကြ၏။ ယခု ကပ်
ကာလကို အဘယ်ကြောင့် ပိုင်းခြား၍မသိနိုင်
၅၇ ကြသနည်း။-ထိုမှတပါး ဖြောင့်မတ်ခြင်းတရား
ကိုအဘယ်ကြောင့်အလိုအလျောက် ပိုင်းခြား၍
၅၈ မသိကြသနည်း။- သင်သည်တရားတွေ့ဘက်နှင့်
အတူမင်းထံသို့သွားသောအခါ အမှုပြေစေခြင်း
ငှါ ထမ်းရွက်ကြိုးစားလော့။ သို့မဟုတ်၊တရားတွေ့
ဘက်သည်တရားသူကြီးရှေ့သို့ဆွဲမည်။တရားသူ
ကြီး၊သည်လုလင်ခေါင်း၌အပ်၍၊ လုလင်ခေါင်း
၅၉ သည် ထောင်ထဲ၌ လှောင်ထားမည်။- ကျော်ပြစ်
ငွေရှိသမျှကိုမလျော်မှီထိုင်အောင် ထောင်ထဲက
မထွက်ရ၊ငါဆိုသည်ဟုမိန့်တော်မူ၏။

၁၃

၁ ထိုအခါ လူအချို့တို့သည်လာ၍၊ ပိလတ်မင်း
သည် ဂါလိလဲလူအချို့တို့၏ အသွေးကို မိမိတို့ပူ
ဇော်သော ယဇ်ကောင်တို့နှင့် ရောနှောကြောင်း
၂ ကိုလျှောက်ကြလျှင်၊- ယေရှုက၊ ထိုဂါလိလဲလူ
တို့သည် ထိုသို့ ခံရသောကြောင့်၊ အခြား သော
ဂါလိလဲ လူ အ ပေါင်း တို့ ထက် သာ၍ အပြစ် ရှိ
၃ သည်ဟုထင်ကြသလော။-သာ၍အပြစ်ရှိသည်
မဟုတ်။ သင်တို့ရှိသမျှသည်လည်း နောင်တမရ
လျှင် ဖျက်စီးခြင်းသို့ ရောက်ကြလိမ့်မည်ဟု ငါ
၄ ဆို၏။- ထိုမှတပါး၊ ရှိလောင်ပြိုအိုးလဲ၍၊ ပိသော
သူ တ ကျိပ် ရှစ်ယောက်တို့သည် ယေရုရှလင်မြို့
သားအပေါင်းတို့ထက်သာ၍ အပြစ်ရှိသည်ဟု
၅ ထင်ကြသလော။-သာ၍အပြစ်ရှိသည်မဟုတ်။
သင် တို့ ရှိသမျှ သည်လည်း နောင် တ မရ လျှင်
ဖျက်စီးခြင်းသို့ ရောက်ကြလိမ့်မည်၊ ငါ ဆိုသည်
ဟုမိန့်တော်မူ၏။
၆ တဖန်ဥပမာကို မိန့်တော်မူသည်ကား။ လူတ
ယောက်သည် ဥယျာဉ်၌ စိုက်သော သင်္ဘောသ
ဖန်းပင် တပင်ရှိ၏။ ထိုအပင်သို့လာ၍ အသီးကို
၇ ရှာသော်လည်းမတွေ့။- ထိုအခါ ဥယျာဉ်စောင့်
အားလည်း၊ သုံးနှစ်ပတ်လုံး ဤသင်္ဘောသဖန်း
ပင်သို့ငါလာ၍အသီးကိုရှာသော်လည်းမတွေ့
ရ။ခုတ်ပြစ်လော့။ အဘယ်ကြောင့်မြေကိုနှောင့်
ရှက်ရသနည်း၊ဟု အမိန့်ရှိသော်၊ ဥယျာဉ် စောင့်
၈ က၊သခင်၊ယခုနှစ်ရှိပါစေဦး။- အကျွန်ုပ်သည်အ
ပင် နားပတ်လည်ကို တူးဆွ၍ နောက်ချေးကို ဖို့
၉ ပါမည်။-အသီး သီးကောင်းသီးပါလိမ့်မည်။သို့
မဟုတ်၊နောက်မှခုတ်ပြစ်တော်မူပါဟု လျှောက်
လေသည်ဟုမိန့်တော်မူ၏။
၁၀ တနေ့သော ဥပုသ်နေ့၌ ယေရှုသည် တရားဇ
၁၁ ရပ်တွင် ဆုံးမဩဝါဒပေးတော်မူသောအခါ၊- တ
ဆယ် ရှစ်နှစ် ပတ်လုံး နတ် စွဲ၍ ရောဂါ နှိပ်စက်
ခြင်းကိုခံရသောမိန်းမတယောက်ရှိ၏။ထိုမိန်းမသည်
၁၂ ကြောကုန်း၍ ကိုယ် ကိုအလျှင်းမဆန့်နိုင်။-ယေ
ရှုသည် ထိုမိန်းမကိုမြင်တော်မူလျှင် အထံတော်သို့
ခေါ်၍၊ အချင်းမိန်းမ၊ သင်သည် အနာ ရောဂါ နှင့်
၁၃ လွတ်၏ ဟု မိန့် တော်မူ လျက်၊- လု အ ပေါ်မှာ
လက်တော်ကို တင်တော်မူသဖြင့် သူသည်ချက်

ရှစ်နှစ်ပတ်လုံးသည်မတ်ခြင်းသို့ ရောက်၍၊ ဘုရားသခင်၏
၁၄ ဂုဏ်တော်ကိုချီးမွမ်းလေ၏။- ထိုသို့ဥပုသ်နေ့၌
ယေရှုသည် အနာရောဂါကို ငြိမ်းစေတော်မူ
သောကြောင့်တရားဇရပ်မှူးသည်အမျက်ထွက်
၍၊ အလုပ်လုပ်ရသောနေ့ရက်ခြောက်ရက်ရှိ၏၊
ထိုနေ့ရက်တွင် လာ၍ အနာရောဂါငြိမ်းစေခြင်း
ကျေးဇူးကို ခံကြလော့၊ ဥပုသ်နေ့၌မလာမခံကြ
၁၅ နှင့်ဟု၊ပရိသတ်တို့အားဆို၏။-သခင်ဘုရားက
လည်း၊၊ မာယာဖြစ်သောသူ၊ သင်တို့ရှိသမျှသည်
ဥပုသ်နေ့၌မြင်း၊၊ နွားကိုတင်းကုပ်မှလွှတ်၍၊ ရေ
တိုက်ခြင်းငှါ ဆောင်သွားတတ်သည် မဟုတ်
၁၆ လော။-တဆယ်ရှစ်နှစ်ပတ်လုံးစာတန်ချုပ်နှောင်
သော၊အာဗြဟံ၏သမီး၊ဖြစ်သောဤမိန်းမကိုဤချုပ်
နှောင်ခြင်းမှ ဥပုသ်နေ့၌ မလွှတ်ရသလောဟု
၁၇ မိန့်တော်မူ၏။- ထိုသို့မိန့်တော်မူပြီးမှရန်ဘက်
နေသောသူအပေါင်းတို့သည် ရှက်ကြောက်ခြင်း
ရှိ၍၊ ပြုတော်မူသော ထူးဆန်းသော အမှုများ
တို့ကိုလူအပေါင်းတို့သည်နှစ်သက်ဝမ်းမြောက်
ကြ၏။
၁၈ တဖန်မိန့်တော်မူသည်ကား၊ ဘုရားသခင်၏
နိုင်ငံတော်သည် အဘယ်အရာနှင့် တူသနည်း၊၊
၁၉ အဘယ်သို့ပုံပြရအံ့နည်း၊၊-လူသည်ယူ၍ဥယျာဉ်
၌စိုက်သောမုန်ညင်းစေ့နှင့်တူ၏၊ထိုအစေ့သည်
ကြီးပွား၍ အပင်ကြီးဖြစ်၏၊ မိုဃ်းကောင်းကင်
ငှက်တို့သည်လည်း၊၊ အကိုင်းအခက်တို့၌နားနေ
၂၀ မှီခိုကြသည်ဟုမိန့်တော်မူ၏၊-တဖန်မိန့်တော်မူ
သည်ကား၊၊ ဘုရားသခင်၏နိုင်ငံတော်ကိုအဘယ်
၂၁ သို့ပုံပြရအံ့နည်း၊၊- မိန်းမသည် တဆေးကို ယူ၍
မုန့်ညက်သုံးတင်း၌ထည့်သဖြင့်၊ မုန့်ညက်ရှိသ
မျှကိုဖောင်းကြွစေတတ်သော တဆေးနှင့် တူ
သည်ဟုမိန့်တော်မူ၏၊
၂၂ ထိုအခါယေရှုသည်မြို့ရွာတို့ကိုဒေသစာရီလှည့်
လည်လျက်၊ ဆုံးမဩဝါဒပေးလျက်၊ ယေရုရှလင်
၂၃ မြို့သို့ခရီးသွားတော်မူ၏၊-လူတဦးကလည်း၊ သ
ခင်၊ ကယ်တင်ခြင်းသို့ ရောက်သောသူတို့သည်
များသလော၊ နည်းသလောဟု မေးလျှောက်
၂၄ လျှင်၊- ကျဉ်းမြောင်းသောတံခါးဝကိုဝင်ခြင်းငှါ
ကြိုးစားအားထုတ်ကြလော့၊ အကြောင်းမူကား၊
အများသောသူတို့သည်ဝင်ခြင်းငှါအလိုရှိသော်
၂၅ လည်းမစွမ်းနိုင်ကြဟုငါဆို၏၊-အိမ်ရှင်သည်
တခါထ၍တံခါးကိုပိတ်ပြီးမှ၊ သင်တို့သည် ပြင်
၌ရပ်၍တံခါးကိုခေါက်လျက်၊ သခင်၊သခင်၊ အ
ကျွန်ုပ်တို့အား ဖွင့်ပါဟု သောင်းလျှောက်သော်
လည်း၊၊ သခင်က၊ သင်တို့သည် အဘယ်က သ
၂၆ သည်ကိုငါမသိဟုပြန်ပြောလိမ့်မည်၊- ထိုအခါ
သင်တို့ကလည်း၊၊ အကျွန်ုပ်တို့သည်အထံတော်
၌စားသောက်ပါပြီ၊ အကျွန်ုပ်တို့နေသော မြို့ရွာ
၌ကိုယ်တော်သည်ဆုံးမဩဝါဒပေးတော်မူပြီဟု
၂၇ လျှောက်ပြန်သော်လည်း၊၊- သခင်က၊ သင်တို့
သည် အဘယ်က လာသည်ကို ငါမသိဟု ငါဆို
ပြီ၊မတရားသောအမှုကိုပြုသောသူအပေါင်းတို့၊
၂၈ ငါ့ထံမှဖယ်သွားကြဟုပြောလိမ့်မည်၊- ထိုအခါ
အာဗြဟံ၊ဣဇာက်၊ယာကုပ်မှစသောပရောဖက်
အပေါင်းတို့သည် ဘုရားသခင်၏ နိုင်ငံတော်ထဲ
သို့ဝင်၍၊သင်တို့သည်ပြင်သို့နှင်ထုတ်ခြင်းကိုခံရ
သောအခါ၊ ငိုကြွေးခြင်း၊၊ သွားခဲကြိတ်ခြင်းရှိ
၂၉ လတံ့၊- ထိုအခါ အရှေ့အနောက်တောင်မြောက်
အရပ်လေးမျက်နှာ က လာ၍၊ ဘုရားသခင်၏
၃၀ နိုင်ငံထဲတွင် လျောင်းရကြလတံ့၊- နောက်ကျ
သောသူ အချို့တို့သည် အရင်ကျကြလိမ့်မည်၊
အရင်ကျသော သူအချို့တို့သည် နောက်ကျကြ
လိမ့်မည်ဟုမိန့်တော်မူ၏၊
၃၁ ထိုအခါ ဖာရိရှဲအချို့တို့သည် အထံတော်သို့
လာ၍၊ ဤအရပ်မှ ထွက်သွားပါ၊ ဟေရုဒ်မင်း
သည်ကိုယ်တော်ကို သတ်မည် အကြံရှိပါသည်
ဟု လျှောက်ကြလျှင်၊ ကိုယ်တော်က၊ သင်တို့
၃၂ သွားကြလော့၊-ယနေ့နှင့်နက်ဖန်နေ့၌နတ်ဆိုး
တို့ကို နှင်ထုတ်၍၊ အနာရောဂါကို ငြိမ်းစေ၏၊
သုံးရက်မြောက်သောနေ့၌စုံလင်ခြင်းသို့ရောက်
မည်အရာကို၊ ထိုမြေခွေးအား ပြောကြလော့၊-
၃၃ သို့သော်လည်းယနေ့၊နက်ဖန်နေ့၊သန်ဘက်နေ့
၌ငါသွားရသေး၏၊ အကြောင်းမူကား၊ ယေရု
ရှလင်မြို့မှတပါး၊ အခြားသော အရပ်၌ အသယ်
၃၄ ပရောဖက်မျှမဆုံးရ၊-ဖိုယေရုရှလင်မြို့၊ယေရု
ရှလင်မြို့၊ သင်သည်ပရောဖက်တို့ကို သတ်ခြင်းရှိ
၏၊ သင်မှာသို့စေလွှတ်သောသူတို့ကို ထည့်ခဲ
ကျောက်ခဲနှင့်ပစ်ခြင်းရှိ၏၊ ကြက်မသည်မိမိသား
ငယ်တို့ကို အတောင်အောက်၌ စုရုံးသကဲ့သို့၊
သင်၏သားတို့ကို စုရုံးစေခြင်းငှါ ကြိမ်ဖန်များ
၃၅ စွာငါအလိုရှိ၏၊ သင်မူကား အလိုမရှိ၊- သင်တို့
နေသောအိမ်သည် သင်တို့၌ လူဆိတ်ညံလျက်
ကျန်ရစ်ရ၏၊ ငါဆိုသည်ကား၊ ထာဝရဘုရား၏
အခွင့်နှင့် ကြွလာသော သူသည် မင်္ဂလာရှိစေ
သောဟု၊ သင်တို့ မပြောမှီ တိုင်အောင် ထပ်မံ၍

၍၊ သင်ဆိုသည် ဖျော်နှာကိုမခွင်ခရကြဟု မိန့်
တော်မူ၏။

## ၁၄

၁ တနေ့သောဥပုသ်နေ့၌ ကိုယ်တော်သည်၊ အ
စာကိုသုံးဆောင်ခြင်းငှါအချုပ်ဖြစ်သောဖာရိရှဲ
တယောက်၏ အိမ်သို့ဝင်တော်မူလျှင်၊ ထိုသူတို့
၂ သည် ကိုယ်တော်ကို ချောင်းကြည့်ကြ၏။- ရေ
ဖျဉ်းနာစွဲသော သူတယောက်သည် ရှေ့တော်၌
၃ ရှိ၏။-ဥပုသ်နေ့၌အနာရောဂါကိုငြိမ်းစေအပ်သ
သောဟု၊ ဖာရိရှဲနှင့်ကျမ်းတတ်တို့ကိုမေးတော်
၄ မူလျှင်၊- သူတို့သည် တိတ်ဆိတ် စွာ နေကြ၏။
သခင်သည် ထိုသူ ကို ယူ ၍၊ အနာရောဂါ နှင့်
ကင်းလွတ် စေ ပြီးမှ လွှတ် လိုက် တော် မူ၏။-
၅ ပရိသတ်တို့ကိုလည်း၊ မိမိ၌၊ နွားသည်ဥပုသ်
နေ့၌တွင်းထဲသို့ကျလျှင်၊ ချက်ချင်းမဆွဲမတင်ဘဲ
နေမည်သူ တစုံတယောက်သည် သင်တို့တွင်ရှိ
၆ သလောဟု မေးတော်မူလျှင်၊- ထိုသူတို့သည်
စကားတခွန်းကိုမျှမပြန်နိုင်ကြ။
၇ ထိုအခါ ခေါ်ဖိတ်သော သူတို့ သည် မြင့်မြတ်
သောနေရာထိုင်ရာကိုရွေးကြသည်ကို မြင်တော်
မူလျှင်၊ သူတို့အား ဥပမာကို မိန့် တော်မူသည်
၈ ကား၊- သူတပါးသည်မင်္ဂလာဆောင်ပွဲသို့ သင့်
ကိုခေါ်ဖိတ်သောအခါ၊ မြင့်မြတ်သောနေရာ၌မ
လျောင်းနှင့်၊ထိုသို့လျောင်းလျှင်၊သင့်ထက်သာ
၍ မြတ်သောသူသည် ပွဲသို့လာသည် ရှိသော်၊-
၉ သင်တို့ နှစ်ယောက်ကို ခေါ်ဖိတ်သော သူက၊ ဤ
သူအားနေရာကို ပေးလော့ဟု၊ လာ၍ ပြောလိမ့်
မည်။ ထိုအခါ သင်သည် ရှက်ကြောက်ခြင်းနှင့်
၁၀ နိမ့်သောနေရာသို့ ဆင်းရလိမ့်မည်။- သူတပါး
တို့သည်သင့်ကိုခေါ်ဖိတ်သောအခါ၊သွား၍နိမ့်
သောနေရာ၌လျောင်းလော့။ထိုသို့လျောင်းလျှင်၊
သင့်ကို ခေါ်ဖိတ်သောသူလာသည်ရှိသော်၊ အ
ဆွေ၊ တက်ပါဟုသင့်ကို ဆိုလိမ့်မည်။ ထိုအခါ
သင်နှင့်အတူလျောင်း၊ သောသူတို့ရှေ့မှာ သင်၏
၁၁ အသရေထင်ရှားလိမ့်မည်။- ကိုယ်ကို ကိုယ်ချီး
မြှောက်သော သူမည်သည်ကား၊ နှိမ့်ချခြင်းသို့
ရောက်လတံ့။ ကိုယ်ကိုကိုယ်နှိမ့်ချသော သူမည်
သည်ကား၊ ချီးမြှောက်ခြင်းသို့ ရောက်လတံ့ဟု
မိန့်တော်မူ၏။
၁၂ ကိုယ်တော်ကိုခေါ်ပင့်သောသူအားတဖန်မိန့်
တော်မူသည်ကား၊ သင်သည် နံနက်စာ၊ ညစာ
ထုပ်ကျွေးသောအခါ၊အဆွေခင်ပွန်း၊ညီအစ်ကို
အမျိုး သားချင်း၊ ငွေရတတ်သော အိမ်နီးချင်း
များကိုမခေါ်မဖိတ်နှင့်။ ထိုသို့ခေါ်ဖိတ်လျှင်၊ သူ
တို့သည် နောက်တဖန်သင့်ကိုခေါ်ဖိတ်၍ ကျေး
၁၃ ဇူးဆပ်ကြလိမ့်မည်။- သင်သည်ပွဲခံသောအခါ
ဆင်းရဲသောသူ၊ အင်္ဂါချို့တဲ့သောသူ၊ ခြေမစွမ်း
သောသူ၊ မျက်မမြင်သောသူများကို ခေါ်ဖိတ်
၁၄ လော့။-ထိုသို့ခေါ်ဖိတ်လျှင်၊မင်္ဂလာရှိလိမ့်မည်။
အကြောင်းမူကား၊ထိုသူတို့သည်ကျေးဇူးမဆပ်
နိုင်သည်ဖြစ်၍၊ ဖြောင့်မတ်သော သူတို့သည်
ထမြောက်သည် ကာလ၌၊ သင် သည် ကျေးဇူး
ဆပ်ခြင်း၊ အကျိုးကိုခံရလတံ့ဟုမိန့်တော်မူ၏။
၁၅ စားပွဲ၌ လျောင်းသော သူ တ ယောက် သည်
ထို စကားတော်ကို ကြားလျှင်၊ ဘုရား သခင်၏
နိုင်ငံတော်၌ ပွဲဝင်သောသူသည် မင်္ဂလာရှိ၏ဟု
၁၆ လျှောက်သော်၊- ကိုယ်တော်က၊ လူတဦးသည်
ကြီးစွာသော ပွဲကိုစီရင်၍၊ လူများ တို့ကို ခေါ်
၁၇ ဖိတ်လေ၏။-ပွဲခံချိန်ရောက်သောအခါ၊ခေါ်ဖိတ်
သော သူတို့ကို လာကြပါ၊ အလုံးစုံတို့သည် အ
၁၈ သင့်ရှိပြီဟုမှာ၍အစေအပါကိုစေလွှတ်၏။-ခေါ်
ဖိတ်သော သူ အပေါင်းတို့သည် တညီတညွတ်
တည်း ပရိယာယ်ပြု ကြ၏။ တယောက်က၊ အ
ကျွန်ုပ်သည်မြေရာကိုဝယ်ပါပြီ။ သွား၍ကြည့်ရ
ပါမည်။အကျွန်ုပ်ကိုလွှတ်ပါဦးလော့ဟုတောင်း
၁၉ ပန်လေ၏။- တယောက်က၊ အကျွန်ုပ်သည်နွား
ငါးရှဉ်းကိုဝယ်ပါပြီ။ သွား၍စမ်းရပါမည်။ အ
ကျွန်ုပ်ကိုလွှတ်ပါဦးလော့ဟုတောင်းပန်လေ၏။-
၂၀ တယောက်က၊ အကျွန်ုပ်သည်မယားနှင့်ထက်
ထပ်ပါပြီ။ ထိုကြောင့်၊ အကျွန်ုပ်မလာနိုင်ပါဟု
၂၀ ဆို၏။- အစေအပါသည်သခင်ထံသို့ ပြန်လာ၍၊
ထို အကြောင်းများကို လျှောက်လေ၏။ ထိုအခါ
အိမ်ရှင်သည် အမျက်ထွက်၍၊ မြို့လမ်းမ လမ်း
ကြားသို့အလော့သွားချေ၍ဆင်းရဲသောသူ၊အင်္ဂါ
ချို့တဲ့သောသူ၊ ခြေမစွမ်းသောသူ၊ မျက်မမြင်
သောသူများကိုခေါ်သွင်းချေဟု၊ အစေအပါကို
၂၂ ဆို၏။- အစေအပါကလည်း၊ သခင်၊ စီရင်တော်
မူသည် အတိုင်းပြုပါပြီ။ သို့သော်လည်း၊ လစ်
သောနေရာ ထိုင်ရာ ရှိပါ သေးသည်ဟု လျှောက်
၂၃ လေသော်၊- သခင်က၊ မြို့ပြင်၊ လမ်းမခြံနားသို့
သွားဦးလော့။ ငါ့အိမ်ကို ပြည့်စေခြင်းငှါ အနိုင်
၂၄ အထက်ခေါ်သွင်းလော့။- အထက်က ခေါ်ဖိတ်
သောသူတယောက်မျှ ငါ့ပွဲသို့ မဝင်ရ၊ ငါအမိန့်ရှိ
ပြီဟုအစေအပါကိုဆိုသည်ဟုမိန့်တော်မူ၏။

၂၅ လူအစုအဝေးအပေါင်းတို့သည်နောက်တော်
သို့လိုက်ကြသည်ကိုယေရှုသည်လှည့်၍ကြည့်
၂၆ တော်မူပြီးလျှင်၊ အကြင်သူသည်ငါ့ထံသို့လာ၍၊
မိဘ၊သား၊မယား၊ ညီအစ်ကို၊နှမတို့ကို၎င်း၊ ထို
မျှမကမိမိအသက်ကို၎င်းမမုန်း၊ ထိုသူသည်ငါ့တ
၂၇ ပည့်မဖြစ်နိုင်ရာ။-အကြင်သူသည်မိမိလက်ဝါး
ကပ်တိုင်ကိုထမ်း၍၊ ငါ့နောက်သို့မလိုက်၊ ထိုသူ
၂၈ သည် ငါ့တပည့် မဖြစ်နိုင်ရာ။- သင်တို့တွင် တ
ယောက်သောသူသည်တိုက်ကိုတည်မည်ဟုအ
ကြံရှိလျှင်၊ ထိုတိုက်ပြီးအောင်ငွေလောက်မည်၊
မလောက် မည်ကို သိခြင်းငှါ၊ ရှေဦးစွာ ထိုင်၍
၂၉ ကုန်စရိတ်ကို မခြင့်တွက်ဘဲနေမည်လော။- သို့
မဟုတ်၊ တိုက်မြစ်ကိုတည်၍တိုက်ကိုမပြီးနိုင်
၃၀ လျှင်၊ သိမြင်သော သူ အပေါင်း တို့က၊- ဤသူ
သည်တည်စ ပြု၍ အစ မသတ် နိုင်ဟု ကဲ့ရဲ့ ကြ
၃၁ ထိမ့်မည်။-တနည်းကား၊တစုံတယောက်သော
ရှင်ဘုရင်သည် အခြား သော ရှင်ဘုရင် နှင့် စစ်
ပြိုင်မည်ဟု အကြံရှိလျှင်၊ လူနှစ်သောင်းနှင့် ဗို
လ်သော ရှင် ဘုရင် ကို လူတသောင်းနှင့် ခံနိုင်
မည်၊ မခံနိုင်မည်ကို၊ ရှေဦးစွာထိုင်၍မဆင်ခြင်
၃၂ ဘဲနေမည်လော။- မခံနိုင်သည်မှန်လျှင်၊အခြား
သောရှင်ဘုရင်ဝေးသေးသောအခါ သံတမန်ကို
စေလွှတ်၍၊ စစ်ငြိမ်းမည်အကြောင်းတောင်းပန်
၃၃ တတ်သည်မဟုတ်လော။- ထိုနည်းတူ၊ သင်တို့
တွင်အကြင်သူသည်မိမိ၌ ရှိသမျှကိုမစွန့်ဘဲ နေ
၃၄ ၏၊ ထိုသူသည် ငါ့တပည့်မဖြစ်နိုင်ရာ။- ဆားမှု
ကား ကောင်း၏၊ သို့သော်လည်း၊ ဆားငန် ကင်း
ပျောက်လျှင်၊ငန်သောအရသာကိုအဘယ်သို့ရ
၃၅ ပြန်မည်နည်း။- မြေ အိုးမကောင်း၊ အမှိုက်ပုံ သို့
မကောင်း၊ ထိုဆားကိုပြင်သို့ ပစ်လိုက်တတ်၏၊
ကြားစရာ နား ရှိ သော သူ မည်သည်ကား ကြား
ပါစေဟုမိန့်တော်မူ၏။

၁၅

၁ အခွန်ခံသောသူတို့နှင့် ဆိုးသောသူအပေါင်း
တို့သည်နားထောင်ခြင်းငှါအထံတော်သို့ချဉ်း
၂ ကပ်သည် ဖြစ်၍၊- ဖာရိရှဲနှင့် ကျမ်းပြုဆရာတို့
က၊ ဤသူသည်ဆိုး သောသူတို့ကို လက်ခံ၍သူ
တို့နှင့်အတူ စားပါသည်တကားဟု ကဲ့ရဲ့အပြစ်
၃ တင်ကြ၏။- ထိုအခါဥပမာစကားကို မိန့်တော်မူ
သည်ကား၊ သင်တို့တွင်တစုံတယောက်သောသူ
၄ ၌သိုးတရာရှိ၍၊-သိုးတကောင်ပျောက်လျှင်၊ကိုး
ဆယ့်ကိုးကောင်သောသိုးတို့ကိုတောတွင်ထား
ခဲ့ပြီးမှ၊ ပျောက်သောသိုး တကောင်ကို မတွေ့မှီ
၅ တိုင်အောင်သွား၍ မရှာဘဲနေမည်လော။- တွေ့
ပြီးလျှင် ဝမ်းမြောက်သောစိတ်နှင့် ပခုံးပေါ်မှာ
၆ တင်ထမ်း၍၊- မိမိအိမ်သို့ ရောက်သောအခါအ
ဆွေခင်ပွန်း၊အိမ်နီးချင်းများကိုခေါ်၍၊ ပျောက်
သောသိုးကိုငါတွေ့ပြီ၊ ငါနှင့်အတူ ဝမ်းမြောက်
၇ ကြလော့ဟု ဆိုတတ်သည် မဟုတ် လော။- ထို
နည်းတူ၊ခြောင့်မတ်၍နောင်တရစရာအကြောင်း
မရှိသောသူ ကိုးဆယ်ကိုးယောက်ထို့၌ ကောင်း
ကင် သား တို့ သည် ဝမ်း မြောက် ခြင်း၊ ရှိ သည်
ထက်၊နောင်တရသောလူဆိုးတယောက်၌သာ၍
၈ ဝမ်းမြောက်ခြင်းရှိကြသည်ဟုငါဆို၏။- တနည်း
ကား၊ တစုံတယောက်သောမိန်းမ၌ ငွေဆယ်ပြား
ရှိ၍တပြားပျောက်လျှင်၊ ဆီမီးကိုထွန်း၍ မတွေ့
မှီတိုင်အောင်တအိမ်လုံးကိုလှည်း၍ ကြိုးစားမရှာ
၉ ဘဲ နေမည်လော။- တွေ့ပြီးလျှင် အဆွေခင်ပွန်း၊
အိမ်နီးချင်းများကိုခေါ်၍၊ ပျောက်သော ငွေကို
ငါတွေ့ပြီ၊ ငါနှင့်အတူဝမ်းမြောက် ကြလော့ဟု
၁၀ ဆိုတတ်သည်မဟုတ်လော။- ထိုနည်းတူ၊ငါဆို
သည်ကား၊ ဘုရားသခင်၏ကောင်းကင်တမန်တို့
သည် နောင်တရသောလူဆိုးတယောက်၌ ဝမ်း
မြောက်ခြင်းရှိကြသည်ဟုမိန့်တော်မူ၏။
၁၁ တဖန်မိန့်တော်မူသည်ကား၊ တစုံတယောက်
၁၂ သောသူ၌သားနှစ်ယောက်ရှိ၏။- သားအငယ်
သည်အဘထံသို့သွား၍၊ အဘ၊ အကျွန်ုပ်ရထိုက်
သောအမွေဥစ္စာကို ဝေ၍ ပေးပါဟုတောင်းပန်
လျှင်၊ အဘသည်ဥစ္စာများကိုဝေ၍သားတို့အား
၁၃ ပေးလေ၏။- ထိုနောက်မကြာ၊သားအငယ်
သည် မိမိဥစ္စာများကိုသိမ်းယူ၍၊ ဝေးစွာသော
ပြည်သို့သွားပြီးလျှင်၊ ထိုပြည်မှာ ကာမဂုဏ်၌
၁၄ လွန်ကျူးသောအားဖြင့်ဥစ္စာဖြုန်းတီး၍။-ရှိသ
မျှကုန်သောအခါ၊ ထိုပြည်၌ကြီးစွာသောအစာ
ခေါင်းပါးခြင်းဖြစ်၍၊ သူသည် အလွန် ဆင်းရဲ
၁၅ ခြင်းသို့ရောက်၏။-ထိုအခါပြည်သားတယောက်
ထံသို့သွား၍ အစေခံလျှင်၊ ဝက်တို့ကို ကျောင်း
စေခြင်းငှါ သူသခင်သည် တောသို့ စေလွှတ်သ
၁၆ ဖြင့်၊- သူသည်ဝက်စားတတ်သော ပဲတောင့်ကို
ပင် စား ချင် မ တတ် ငတ် မွတ် လျက် နေ ရ၏၊ အ
၁၇ ဘယ်သူမျှ အစာကိုမကျွေး။- ထိုအခါ သတိရ
လျှင်၊ ငါ့အဘ၏အိမ်၌ အခစားသော သူများတို့
သည်ဝစွာစားရကြ၏၊ ငါမူကား၊ ဤပြည်၌သေ
၁၈ အောင်အစာငတ်ခံရ၏။- ငါထ၍ အဘထံသို့ သွား

မည်။ အဘ၊ အကျွန်ုပ်သည် ဘုရားသခင် ကို၎င်း၊
၁၉ ကိုယ်တော် ကို၎င်း ပြစ်မှား ပါပြီ။– ယခုမှ စ၍
ကိုယ်တော်၏ သားဟူ၍ ခေါ်ခြင်းကို မခံထိုက်
ပါ။ သူငှါးအရာ၌ အကျွန်ုပ်ကို ထားတော် မူပါ
၂၀ ဟု ငါပြောမည်ဟူ၍ အကြံရှိသည်နှင့်၊– ထ၍
အဘထံသို့ သွားလေ၏။ သွား၍ဝေးသေးသော
အခါအဘသည်သူကိုမြင်လျှင်၊သနားသောစိတ်
ရှိသည်နှင့်ပြေးသွား၍သား၏လည်ပင်းကိုဖိုက်
၂၁ ၍ထပ်လျက်နမ်းရှုပ်လေ၏။–သားကလည်း၊အဘ၊
အကျွန်ုပ်သည် ဘုရားသခင်ကို၎င်း၊ ကိုယ်တော်
ကို၎င်း ပြစ်မှားပါပြီ။ ယခုမှစ၍ ကိုယ်တော်၏
သားဟူ၍ခေါ်ခြင်းကိုမခံထိုက်ပါဟု ဆိုလျှင်၊–
၂၂ အဘက၊ မြတ်သော ဝတ်လုံကို ထုတ်၍ သူကိုချုံ
ကြ။ သူ၏လက်၌လက်စွပ်တန်ဆာကိုဆင်ကြ။–
၂၃ ခြေနင်းကိုလည်းစီးစေကြ။ ဆူဖောင်ကျွေးသော
နွားကလေးကိုထုတ်၍ သတ်ကြ။ သို့ပြီးမှငါတို့အညီ
စားကြကုန်အံ့၊ ပျော်မွေ့ခြင်းကို ပြုကြကုန်အံ့။–
၂၄ ငါ့သားသည် အထက်ကသေ၏၊ ယခု ရှင်ပြန်၏။
အထက်က ပျောက်၏၊ ယခုတွေ့ပြန်၏ဟု၊ ကျွန်
အပေါင်းတို့ကို ဆိုပြီးမှ၊ ထိုသူအပေါင်းတို့သည်ပျော်
မွေ့ခြင်းကိုပြုကြ၏။
၂၅ သားအကြီးသည်တောင်ယာကလာ၍အိမ်အ
နီးသို့ရောက်သောအခါ၊ ကခြင်း၊ တီးမှုတ်ခြင်း
၂၆ အသံကိုကြားလျှင်၊– ငယ်သား တယောက်ကို
ခေါ်၍၊ အဘယ်သို့သော အခြင်းအရာနည်းဟု
၂၇ မေး၏။– ငယ်သားက၊ သခင်၏ညီသည်ရောက်
လာပါပြီ။ ထေးခွင့်ကင်းလွတ်လျှက် ရှိသည်ကို
အဘတွေ့သောကြောင့်၊ ဆူဖောင်ကျွေးသောနွား
ကလေးကိုသတ်ပါပြီဟုပြောဆို၏။ သားအကြီး
၂၈ သည်အမျက်ထွက်၍အိမ်သို့မဝင်ဘဲနေ၏။– အဘ
၂၉ သည်သူဆီသို့သွား၍ချော့မော့ရ၏။– သားအ
ကြီးကလည်း၊ အကျွန်ုပ်သည် ကာလ ထာရှည်
စွာအဘ၏အစေကိုခံပါပြီ။ အဘ၏အထုံကိုတခါ
မျှမလွန်ကျူးပါ။ သို့သော်လည်း၊ အကျွန်ုပ်သည်
အဆွေတို့နှင့်အတူ ပျော်မွေ့ ခြင်းကို ပြု စေခြင်း
ငှါ၊ အဘသည် ဆိတ်ကလေးတကောင်ကိုတခါမျှ
၃၀ မပေး။–ပြည်တန်ဆာမိန်းမတို့နှင့်ပေါင်းဖော်၍ မိမိ
ဥစ္စာကိုဖြုန်းသော ဤသားငယ်ရောက်လာသော
အခါမှကား၊ အဘသည်ဆူဖောင်ကျွေးသောနွား
၃၁ ကလေးကို သတ်လေပြီတကားဟု ဆို၏။– အဘ
ကလည်း၊ ငါ့သား၊ သင်သည်ငါ့ထံမှာ အစဉ်နေ၏။
၃၂ ငါ၏ဥစ္စာရှိသမျှသည်သင်၏ဥစ္စာဖြစ်၏။–သင်၏
ညီမူကား၊ အထက်ကသေ၏၊ ယခုရှင်ပြန်၏။ အ
ထက်ကပျောက်၏၊ ယခုတွေ့ပြန်၏။ ထိုကြောင့်
ပျော်မွေ့ ဝမ်းမြောက်စရာ အကြောင်းရှိ၏၊ အဘ
ဆိုသည်ဟုမိန့်တော်မူ၏။

၁၆

၁ တပည့်တော်တို့အား တဖန်မိန့်တော်မူသည်
ကား၊ ငွေရတတ်သောသူတယောက်၌ ထမ္မာ
မိုးရှိ၏။ ထိုထမ္မာမိုးသည်သခင်၏ဥစ္စာများကို
ဖျက်ဆီးသည်အကြောင်းကို၊သူတပါးတို့သည်
၂ သခင်ရှေ့၌ အပြစ်တင် ကြသော်၊– သခင်သည်
ထမ္မာမိုးကိုခေါ်၍၊သင်၏အမှုအရာ၌ငါကြား
ရသောစကားကား၊အဘယ်သို့နည်း။ ထမ္မာမိုး
အရာ၌ မှတ်သားသော စာရင်း ကို ပေးလေဦး။
၃ ယခုမှစ၍ထမ္မာမိုးမလုပ်ရဟုဆို၏။– ထိုအခါ
ထမ္မာမိုးက၊ငါသည်အဘယ်သို့ပြုရမည်နည်း။
ငါ၏သခင်သည်ထမ္မာမိုးအရာကိုနုတ်ထေပြီ။
ထယ်ထုပ်ခြင်းငှါ မစွမ်းနိုင်၊ သူတောင်းစား
၄ ထုပ်ခြင်းငှါရှက်ကြောက်၏။–ထမ္မာမိုးအရာမှ
ကျသည်နောက် သူတပါးတို့သည် မိမိတို့အိမ်၌
ငါ့ကို လက်ခံစေခြင်းငှါ၊ အဘယ်သို့ ငါပြုရမည်
၅ ကိုငါသိ၏ဟူ၍ စိတ်ထဲ၌ကြံစည်ပြီးမှ၊– သခင်
၏ငွေရှိသောသူအပေါင်းတို့ကိုခေါ်၍၊ငါ၏သခင်
ကို ဆပ်ပေးရန်သင်၌ အဘယ်မျှလောက် ရှိသ
၆ နည်းဟု၊တယောက်ကိုမေးလျှင်၊– ထိုသူက၊ ဆီ
အိုးတရာ ပေးရန် ရှိပါသည်ဟု ဆို၏။
ထမ္မာမိုးကလည်း၊ သင်၏ စာရင်းကို ယူ၍ အ
သော့ထိုင်ပြီးလျှင်၊ အိုးငါးဆယ်ကို ရေးမှတ်
၇ လော့ဟုဆို၏။– ထိုနောက်၊ အခြားသောသူကို
ခေါ်၍၊ ငါ၏သခင်ကိုဆပ်ပေးရန်သင်၌အဘယ်
မျှလောက်ရှိသနည်းဟု မေးလျှင်၊ ထိုသူက၊ ဂျုံ
စပါး အတင်းတရာ ပေးရန်ရှိပါသည်ဟု ဆို
၏။ထမ္မာမိုးကလည်း၊သင်၏စာရင်းကိုယူ၍အ
၈ တင်းရှစ်ဆယ်ကိုရေးမှတ်လော့ဟုဆို၏။–မတရား
သောထို ထမ္မာမိုးသည် လိမ္မာစွာ ပြုသည် ကို
သခင်သည် ချီးမွမ်းလေ၏။ အကြောင်းမူကား၊
လောကီသားတို့သည်မိမိတို့အမှုကိုဆောင်ရွက်
ရာတွင်၊အလင်းသို့ရောက်သောသူတို့ထက်သာ
၉ ၍လိမ္မာကြ၏။–တဖန်ငါဆိုသည်ကား၊ သင်တို့
သည်ဆုံးရှုံးသောအခါ၊ အစဉ်အမြဲတည်သော
နိတ်မှန်၌သင်တို့ကိုလက်ခံတော်မူသောအဆွေရှိ
စေခြင်းငှါ၊ မဖြောင့်သော လောကီ စည်းစိမ်ကို သုံး
ဆောင်ကြလော့။

၁၀ အနည်းငယ်သောအမှု၌သစ္စာရှိသောသူသည်
ကြီးသောအမှု၌လည်းသစ္စာရှိလိမ့်မည်၊အနည်း
ငယ်သောအမှု၌ သစ္စာ မရှိသော သူသည် ကြီး
၁၁ သော အမှု၌ လည်း သစ္စာမရှိ၊- သို့ဖြစ်၍၊ မဖြော
သော လောကီ စည်းစိမ်ကို သုံးရာတွင် သင် တို့
သည်သစ္စာမရှိလျှင်၊ မှန်သောစည်းစိမ်ကို သင်
၁၂ တို့၌ အဘယ်သူအပ်မည်နည်း၊- သူတပါးအမှု
၌သင်တို့သည်သစ္စာမရှိလျှင်၊ အဘယ်သူသည်
၁၃ အပိုင်ပေးမည်နည်း၊- အဘယ်အစေခံမျှ သခင်
နှစ်ဦးအစေကိုမခံနိုင်၊ သခင်တဦးကို မုန်း၍ တ
ဦးကိုချစ်မည်၊ သခင်တဦးမှီခို၍တဦးကိုမခန့်မ
ညားပြုမည်၊ သင်တို့သည်ဘုရားသခင်၏ အစေ
ကိုငှင်၊ လောကီစည်းစိမ်၏ အစေကိုငှင် မခံနိုင်
ကြဟုမိန့်တော်မူ၏၊
၁၄ ငွေကိုတပ်မက်သောဖာရိရှဲတို့သည်ထိုစကား
များကို ကြားလျှင်၊ ကိုယ်တော်ကို ပြက်ရယ်ပြု
၁၅ ကြ၏၊-ယေရှုကလည်း၊သင်တို့သည်လူများရှေ့
မှာ ဖြောင့်မတ်ယောင်ဆောင်သော်လည်း၊ ဘုရား
သခင်သည်သင်တို့၏စိတ်နှလုံးကိုသိမြင်တော်
မူ၏၊ လူသဘောအားဖြင့် အမြတ်ထားသောအ
ရာသည်ဘုရားသခင်ရှေ့တော်၌ စက်ဆုပ်ရွံရှာ
၁၆ ဘွယ်ဖြစ်၏၊- ယောဟန်မရောက်မှီ တိုင်အောင်
ပညတ်ကျမ်းနှင့်အနာဂတ္တိကျမ်းရှိ၏၊ယောဟန်
လက်ထက်မှစ၍၊ ဘုရားသခင်၏ နိုင်ငံတော်နှင့်
ဆိုင်သောဧဝံဂေလိတရားကိုဟောလျက်ရှိ၏၊လူ
များ ိ ာည်လည်းနိုင်ငံတော်ကိုအနိုင်အထက်
၁၇ ဝင်ကြ၏၊-ပညတ္တိကျမ်း၌အငယ်ဆုံးသောမှတ်တ
တလုံး၊ ပျက်စီး လွယ်သည် ထက်၊ ကောင်းကင်
၁၈ နှင့် မြေကြီး၊ ပျက်စီးလွယ်၏၊- အကြင်သူသည်
မိမိမယားနှင့်ကွာ၍၊ အခြားသောမိန်းမနှင့် စုံဖက်
ခြင်းကိုပြု၏၊ထိုသူသည်မိမိမယားကိုပြစ်မှား၏၊
လင်ကွာသော မိန်းမနှင့် စုံဖက်ခြင်းကို ပြုသောသူ
သည် လည်း၊ သူ့မယားကို ပြစ်မှားသည်ဟု မိန့်
တော်မူ၏၊
၁၉ တခန်းတုံ၊ သူဌေးတယောက်သည် နီမောင်း
သောကမ္ဗလာနှင့်ပိတ်ချောကိုဝတ်ဆင်၍၊ ကာမ
ဂုဏ်စည်းစိမ်၌ နေ့တိုင်း ပျော်မွေ့လျက် နေ၏၊-
၂၀ လာဇရု အမည် ရှိသော သူ ဆင်းရဲ တယောက်
၂၁ သည်တကိုယ်လုံး၌အနာစိမ်းပေါက်၍၊-သူဌေး
၏စားပွဲမှ ကျသောစားကြွင်းစားပေါက်ကို စားပါ
ရစေဟုတောင့်တသော စိတ်နှင့်၊ သူဌေးအိမ်တံ
ခါးနားမှာ တုံးလုံးနေ၏၊ ခွေးတို့သည်လာ၍ အ
၂၂ နာစိမ်းများကိုလျက်ကြ၏၊- ထိုနေ့သင်္ချိုင်းဆင်း
ရဲသားသည်သေလွန်၍၊ ကောင်းကင်တမန်တို့
သည်အာဗြဟံ၏ ရင်ခွင်သို့ ဆောင်ကြ၏၊ သူ
ဌေးသည်လည်း၊ သေလွန်၍ သင်္ဂြိုဟ်ခြင်းကို
၂၃ ခံရလေ၏၊- မရဏာ နိုင်ငံ၌ ပြင်းပြစွာသော ဝေ
ဒနာကိုခံရလျက်မျှော်ကြည့်၍၊ အာဗြဟံကိုငှင်၊
အာဗြဟံ၏ရင်ခွင်၌လာဇရုကိုငှင်အဝေးကမြင်
၂၄ လျှင်၊- အိုအဖအာဗြဟံ၊အကျွန်ုပ်ကိုကယ်မသ
နားတော်မူပါ၊ အကျွန်ုပ်သည် ဤမီးလျှံ၌ ပြင်း
စွာခံရသောကြောင့်၊လာဇရုသည်မိမိလက်ဖျား
ကိုရေ၌နှစ်၍ အကျွန်ုပ်လျှာကို စေခြင်းငှါ၊ သူ
ကို အကျွန်ုပ်ရှိရာသို့ စေလွှတ်တော်မူပါဟု ဟစ်
၂၅ ကြော်လေ၏၊- အာဗြဟံကလည်း၊ငါ့သား၊သင်
သည် အသက်ရှင်စဉ်အခါ ချမ်းသာရသည်ကို
ငှင်၊ လာဇရုသည် ဆင်းရဲစွာ နေရသည်ကိုငှင်
အောက်မေ့ လော့၊ ယခု မူကား၊ သူ သည်ထက်
သာခြင်းရှိ၏၊သင်သည် ဒုက္ခဝေဒနာကိုခံရ၏၊-
၂၆ ထိုမှတပါး၊ ငါတို့နှင့် သင်တို့စပ်ကြား၌ အဓွန့်
နက်ရှည်သော ချောက်ကြီး တည် လျက် ရှိ၏၊ ထို
ကြောင့်၊ ဤအရပ်မှ သင်တို့ရှိရာသို့ကူးချင်သော
သူ မကူးနိုင်၊ ထိုအရပ်မှ ငါတို့ရှိရာသို့ ကူးချင်
၂၇ သော သူလည်း မကူးနိုင်ဟု ဆို၏၊- သူဌေးက
၂၈ လည်း၊အိုအဘ၊ထိုသို့မှန်လျှင်၊- အကျွန်ုပ်၌ ညီ
ငါးယောက်ရှိပါသည်ဖြစ်၍၊သူတို့သည်ဤပြင်း
ပြစွာခံရာအရပ်သို့မရောက်မည်အကြောင်း၊သူ
တို့အား သက်သေ ခံစေခြင်းငှါ၊ လာဇရုကို အ
ကျွန်ုပ် အဖ ၏ အိမ် သို့ စေ လွှတ် တော် မူပါ၊ အ
၂၉ ကျွန်ုပ်တောင်းပန်ပါ၏ဟုပြောဆိုလျှင်၊- အာဗြ
ဟံက၊သင်၏ညီတို့၌မောရှေမှစ၍ပရောဖက်များ
ရှိကြ၏၊ ပရောဖက်တို့၏စကားကိုနားထောင်ကြ
၃၀ စေဟုဆို၏၊- သူဌေးကလည်း၊ မဟုတ်ပါ အဘ၊
အာဗြဟံ၊သေသောသူနှစ်ထဲကတယောက်သော
သူသည် ထမြောက်၍ သူတို့ရှိရာသို့ သွားလျှင်၊
သူတို့သည် နောင်တ ရကြ ပါ လိမ့် မည်ဟု ဆို
၃၁ သော်၊- အာဗြဟံက၊သူတို့သည်မောရှေ၏စကား
ပရောဖက်တို့၏ စကားကိုနားမထောင်လျှင်၊ တ
ယောက် သော သူ သည် သေခြင်းမှ ထ မြောက်
သော်လည်းမယုံကြည်နိုင်ကြဟု၊ အာဗြဟံဆို
သည်ဟုမိန့်တော်မူ၏၊

၁၇

၁ တပည့်တော်တို့အား တခန်း မိန့်တော်မူသည်
ကား၊မှားယွင်းစေရာအကြောင်းမရှိရမဖြစ်၊ ထိုအကြောင်း

ထည့်၊ မှား ယွင်း စေသော အကြောင်း ကို ဖြစ်စေ
၂ သောသူသည် အမင်္ဂလာရှိ၏။ ဤသူငယ်တစုံတ
ယောက်ကိုမှားယွင်းစေသည်ထက်၊ လည်ပင်း၌
ကြိတ်ဆုံ ကျောက်ကိုဆွဲ၍ ပင်လယ်၌ ချခြင်းကို
၃ ခံရလျှင်၊ အနေသာ၍ ကောင်း၏။ သင်တို့သည်
ကိုယ်ကိုကိုယ် သတိပြုကြလော့။ သင်၏ ညီအစ်
ကိုသည် သင့်ကိုပြစ်မှားလျှင်၊ သူကိုဆုံးမလော့။
သူသည် နောင်တရလျှင်၊ သူ၏ အပြစ်ကို လွှတ်
၄ လော့။ တနေ့ချင်းတွင်ခုနစ်ကြိမ်မြောက်အောင်
သင့်ကို ပြစ်မှား၍၊ ခုနစ်ကြိမ် မြောက် အောင်
သင့်ထံသို့ လှည့်၍၊ နောင်တရပါ၏ဟု ဆိုလျှင်၊
သူ၏အပြစ်ကိုလွှတ်လော့ဟုမိန့်တော်မူ၏။
၅ တမန်တော်တို့က၊ အကျွန်ုပ်တို့ယုံကြည်ခြင်း
မိတ်ကို ထိုးပွားစေတော်မူပါဟု၊ သခင်ဘုရားကို
၆ လျှောက်ပန်ကြလျှင်၊ သခင်ဘုရားက၊ သင်တို့
သည် မုန်ညင်းစေ့ခန့်မျှလောက်သော ယုံကြည်
ခြင်းရှိလျှင်ထိုသဖန်းပင်ကို၊ အချင်းအပင်၊ သင်
သည် အမြစ်နှင့်တကွ နုတ်၍ ပင်လယ်၌ စိုက်
လျက်နေလော့ဟု ဆိုကြသော်၊ သင်တို့စကားကို
၇ နားထောင်လိမ့်မည်။ အစေအပါးသည် လယ်
ထွန်သော်၎င်း၊ သိုး၊ နွားကျောင်းသော်၎င်း၊ လယ်
ပြင်မှလာ၍ အိမ်သို့ဝင်သောအခါ၊ ထိုအစေအ
ပါးကို၊ အသော့လာ၍ စားပွဲ၌လျောင်းလော့ဟု၊
၈ သင်တို့တွင်အဘယ်သူပြောမည်နည်း။ ထိုအစေ
အပါးကို၊ ငါစားစရာကိုပြင်လော့။ ငါစားသောက်
စဉ်တွင်ခါးကိုစည်း၍ ငါ့ကိုလုပ်ကျွေးလော့။ ထို
နောက်မှ သင်သည်စားသောက်ရမည်ဟု ပြော
၉ မည်မဟုတ်လော။ ထိုအစေအပါးသည် သခင်
မိန့်သည့်အတိုင်းပြုသောကြောင့်၊ သခင်၌ကျေး
၁၀ ဇူးတင်သလော။ ကျေးဇူးမတင်။ ထိုနည်းတူ၊
မှာထားတော်မူသမျှတို့ကိုသင်တို့သည်ကျင့်ပြီး
မှ၊ ငါတို့သည်သခင်၌ ကျေးဇူးပြုသော အစေအ
ပါးဖြစ်သည်မဟုတ်၊ ဝတ်ပြုရုံမျှသာရှိသည်ဟု
ဝန်ခံကြလော့ဟုမိန့်တော်မူ၏။
၁၁ ယေရုရှလင်မြို့သို့ကြွတော်မူစဉ်၊ ရှမာရိပြည်
နှင့်ဂါလိလဲပြည်စပ်ကြား၌ရှောက်သွားတော်မူ
၁၂ ၏။ ရွာတရွာသို့ ဝင်တော်မူသည်တွင်၊ နူနာစွဲ
သောသူတကျိပ်တို့သည်ခရီးဦးကြိုပြု၍ အဝေး
၁၃ ကရပ်လျက်၊ သခင်ယေရှု၊ အကျွန်ုပ်တို့ကိုကယ်
၁၄ မသနားတော်မူပါဟုဟစ်ကြော်ကြ၏။ ယေရှု
သည်မြင်တော်မူလျှင်၊ သင်တို့သည်ယဇ်ပုရော
ဟိတ်ထံသို့ သွား၍ကိုယ်ကို ပြကြလော့ဟု မိန့်
တော်မူသည်အတိုင်း၊ သူတို့သည်သွားစဉ်တွင်
၁၅ သန့်ရှင်းခြင်းသို့ရောက်ကြ၏။ ထိုသူတို့တွင်တ
ယောက်သောသူသည် အနာရောဂါကင်းလွတ်
သည်ကိုသိမြင်လျှင်၊ ပြန်လာ၍ကြီးသောအသံ
နှင့်ဘုရားသခင်၏ဂုဏ်တော်ကိုချီးမွမ်းလေ၏။
၁၆ ခြေတော်ရင်း၌ပြပ်ဝပ်၍၊ ကျေးဇူးတော်ကြီးလှ
ပါသည်ဟုဝန်ခံလေ၏။ ထိုသူသည်ရှမာရိလူဖြစ်
၁၇ သတည်း။ ယေရှုကလည်း၊ တကျိပ်သောသူတို့
သည် သန့်ရှင်းခြင်းသို့ ရောက်ကြသည်မဟုတ်
လော။ ကိုးယောက် သော သူတို့ သည် အဘယ်
၁၈ မှာရှိကြသနည်း။ ဤတပါးအမျိုးသားကိုထား
၍၊ ဘုရားသခင်၏ဂုဏ်တော်ကို ချီးမွမ်းခြင်းငှါ
ပြန်လာသော သူတယောက်မျှ မရှိ သလောဟု
၁၉ မေးတော်မူပြီးမှ၊ ထ၍သွားလော့။ သင်၏
ယုံကြည်ခြင်းသည် သင်၏ အနာကို ငြိမ်းစေပြီ
ဟု၊ ထိုသူအားမိန့်တော်မူ၏။
၂၀ ဖာရိရှဲတို့သည် လာ၍၊ ဘုရား သခင်၏ နိုင်ငံ
တော်သည်အဘယ်ကာလ၌ တည်ပါမည်နည်း
ဟုမေးလျှောက်ကြလျှင်၊ ယေရှုက၊ ကောင်းကင်
နိုင်ငံတော်သည်မျက်မြင်သောအရာ၌ မတည်။
၂၁ ဤအရပ်၌ကြည့်ပါ၊ ထိုအရပ်၌ကြည့်ပါဟုပြော
စရာအခွင့်မရှိ။ အကြောင်းမူကား၊ ဘုရားသခင်
၏ နိုင်ငံတော်သည် သင်တို့၏အထဲ၌ ရှိသည်ဟု
မိန့်တော်မူ၏။
၂၂ တပည့်တော်တို့အား မိန့်တော်မူသည်
ကား၊ သင်တို့သည်လူသား၏နေ့ရက်တရက်ကို
မျှ တွေ့မြင်လို၍၊ မတွေ့မမြင်ရသော အချိန်ကာ
၂၃ လ ရောက်လိမ့်မည်။ ဤအရပ်၌ကြည့်ပါ၊ ထိုအ
ရပ်၌ ကြည့်ပါဟု၊ သင်တို့ အား ပြော ဆို သော်
၂၄ လည်း၊ မလိုက်မသွားကြနှင့်။ ကောင်းကင်အ
ဖက်မှထွက်သောလျှပ်စစ်သည်ကောင်းကင်အနှံ့
အပြားထွန်းလင်းသကဲ့သို့၊ လူသားသည်မိမိနေ့
၂၅ ရက်၌ဖြစ်တော်မူလတံ့။ ထိုသို့မဖြစ်မီ သူသည်
များစွာသော ဆင်းရဲဒုက္ခ ကို၎င်း၊ ယခုလူမျိုး၏
ငြင်းပယ်ခြင်းကို၎င်းခံရမည်။
၂၆ နောဧလက်ထက်၌ဖြစ်သကဲ့သို့လူသားလက်
၂၇ ထက်၌ဖြစ်လိမ့်မည်။ နောဧသည် သင်္ဘောထဲ
သို့ဝင်၍၊ ရေလွှမ်းမိုးခြင်းဖြစ်သဖြင့်လူခပ်သိမ်း
တို့ကို သုတ်သင် ပယ်ရှင်းသည့်နေ့တိုင်အောင်၊
လူများတို့သည်စားသောက်လျက်၊ ထိမ်းမြားနှံ
၂၈ စပ်လျက်နေကြ၏။ ထိုနည်းတူ၊ လောတလက်
ထက်၌လူများတို့သည်စားသောက်ရောင်းဝယ်

လျက်၊ မိုက်မိုက်လျက်၊ အိမ်ဆောက်လျက် နေသ
၂၉ ကဲ့သို့ရှင်၊-လောတသည်သောဒုံမြို့မှထွက်သော
နေ့၌ ကောင်းကင်မှ ကန့်နှင့်ရောသော မီးမိုးရွာ၍၊ ထိုလူအပေါင်းတို့ကိုသုတ်သင်ပယ်ရှင်း
၃၀ သကဲ့သို့ရှင်၊- လူသားပေါ်ထွန်းသောနေ့၌ ဖြစ်
လိမ့်မည်။
၃၁ ထိုနေ့ရက်၌ အိမ်မိုးပေါ်မှာ ရှိသောသူသည်၊
မိမိအိမ်ထဲမှာ ရှိသောဥစ္စာကိုယူခြင်းငှါ မဆင်း
စေနှင့်။ထိုအတူ၊လယ်၌ရှိသောသူသည် နောက်
၃၂ သို့လှည့်၍မပြန်လာစေနှင့်။- လောတ၏မယား
၃၃ ကိုအောင်းမေ့ကြလော့။- အကြင်သူသည်မိမိအ
သက်ကိုကယ်ဆယ်ခြင်းငှါရှာကြံ၏၊ ထိုသူသည်
အသက်ရှုံးလိမ့်မည်။ အကြင်သူသည် အသက်
ရှုံး၏၊ထိုသူသည်မိမိအသက်ကိုကယ်ဆယ်လိမ့်
၃၄ မည်။-ငါဆိုသည်ကား၊ထိုနေ့ညဉ့်တွင်အိပ်ရာ
တခု၌ရှိသောသူနှစ်ယောက်တို့တွင်၊တယောက်
ကိုသိမ်းယူ၍၊တယောက်မူကားနေရစ်ရလတံ့။-
၃၅ ကြိတ်ဆုံကြိတ်သော သူနှစ်ယောက်တို့တွင်၊ တ
ယောက်ကိုသိမ်းယူ၍၊တယောက်မူကားနေရစ်
၃၆ ရလတံ့။- လယ်၌ရှိသောသူနှစ်ယောက်တို့တွင်
တယောက်ကိုသိမ်းယူ၍၊ တယောက်မူကားနေ
၃၇ ရစ်ရလတံ့ဟုမိန့်တော်မူလျှင်၊- သခင်၊အဘယ်
အရပ်၌ ထိုသို့ ဖြစ်ပါမည်နည်းဟု မေးလျှောက်
ကြသော်၊ အသေကောင်ရှိရာအရပ်၌လင်းတ
တို့သည်စုဝေးကြလတံ့ဟုမိန့်တော်မူ၏။

၁၈

၁ လူတို့သည် အစဉ်မလျှော့ဘဲ ကြိုးစား၍ ဆု
တောင်းရမည်အကြောင်းကို ဥပမာစကားအားဖြင့်မိန့်တော်မူသည်ကား၊-
၂ မြင့်မိန့်တော်မူသည်ကား၊- မြို့တမြို့၌ ဘုရားသ
ခင်ကိုမကြောက်၊ လူကိုအားမနာတတ်သော
၃ တရားသူကြီးတယောက်ရှိ၏။- ထိုမြို့၌နေသော
မုဆိုးမ တယောက် သည် တရား သူကြီး ထံသို့
သွား၍၊ကျွန်မရန်သူကိုထက်စားချေလော်
အောင်၊ အပြစ် အလျှောက် ဖြေ၍ စီရင်ပါ ဟု
၄ တောင်းပန်သော်လည်း၊- တရားမစီရင်ဘဲကြာ
မြင့်စွာနေ၏၊ထိုနောက်တရားသူကြီးက၊ငါသည်
ဘုရားသခင်ကို မကြောက်၊ လူကို အားမနာ
၅ တတ်သောသူဖြစ်သော်လည်း၊-ဤမုဆိုးမသည်
ငါ့ကိုနှောင့်ရှက်သောကြောင့်သူ့အကြောင်း၌တရားစီ
ရင်မည်။သို့မဟုတ်၊ အစဉ်လာ၍ငါ့ကိုပင်ပန်းစေ
၆ လိမ့်မည်ဟု၊စိတ်ထဲ၌အကြံရှိ၏။-မတရားသော
ထို တရား သူကြီး ၏ အကြံ ကို မှတ်ကြလော့၊-
၇ ဘုရားသခင် ရွေး ကောက် တော် မူ သော လူတို့
သည် ညဉ့် နေ့ မပြတ် အော် ဟစ်၍ တောင်း
လျှောက်လျှင်၊ ဘုရားသခင်သည် သူတို့အတွက်၌
တရား မစီရင်ဘဲ နေတော်မူမည်လော၊ ကြာမြင့်
၈ စွာ သည်းခံ တော် မူ မည်လော။- ငါ ဆို သည်
ကား၊ သူတို့ ထက်၌ အလျှင် အမြန် တရား စီရင်
တော်မူမည်။ သို့သော်လည်း၊ လူသားသည် ကြွ
လာသောအခါ၊ ယုံကြည်ခြင်းကို မြေကြီးပေါ်
မှာ တွေ့ မည် လောဟု၊ သခင် ဘုရားသည် မိန့်
တော်မူ၏။
၉ ကိုယ်ကိုယ်ကိုယ်ကို အမှီပြု၍၊ သူတပါးကိုမထီ
မဲ့မြင် ပြုတတ်သော သူအချို့တို့အား မိန့် တော်မူ
၁၀ သောဥပမာကား၊- လူနှစ်ယောက် တို့သည် ဆု
တောင်း ပဌနာပြုခြင်းငှါ ဗိမာန် တော်ပေါ်သို့
တက်ကြ၏။ တယောက်ကားဖာရိရှဲဖြစ်၏။ တ
၁၁ ယောက်ကားအခွန်ခံဖြစ်၏။- ဖာရိရှဲသည် တ
ယောက်တည်းရပ်လျက်၊အိုဘုရားသခင်၊သူတ
ပါးတို့သည် အနိုင်အထက် လုယူခြင်း၊ မတရား
သဖြင့်ကျင့်ခြင်း၊သူမယားကိုပြစ်မှားခြင်းအပြစ်
ရှိသကဲ့သို့ အကျွန်ုပ်၌ မရှိသည်သာ မက၊ ဤအ
ခွန်ခံ ကဲ့သို့ ပင် မဟုတ် သောကြောင့် ကျေးဇူး
၁၂ တော်ကြီးလှပေ၏။- အကျွန်ုပ်သည် ခုနစ်ရက်
တွင်နှစ်ရက်အစာရှောင်ပါ၏၊ ဥစ္စာရှိသမျှတို့ကို
ဆယ်ဖို့တဖို့ လှူပါ၏ဟူ၍ ဆုတောင်း ပဌနာ ပြု
၁၃ ၏။- အခွန်ခံမူကား၊ အဝေးက ရပ်၍၊ ကောင်း
ကင်သို့ မမျှော်မကြည့်ဝံ့ဘဲရင်ပတ်ကိုခတ်လျက်၊
အိုဘုရားသခင်၊ အပြစ်များသော အကျွန်ုပ်ကို
သနားခြင်း ကရုဏာ စိတ် ရှိတော်မူပါဟု ဆု
၁၄ တောင်း၏။- ငါ ဆိုသည်ကား၊ ထိုသူသည်
အပြစ်ပြေလျက် မိမိအိမ်သို့ပြန်သွား၏။ ဖာရိရှဲ
မူကားအပြစ်မပြေ။အကြောင်းမူကား၊ကိုယ်ကို
ကိုယ်ချီးမြှောက်သောသူမည်သည်ကား၊ နှိမ့်ချ
ခြင်းသို့ရောက်လတံ့။ ကိုယ်ကိုကိုယ်နှိမ့်ချသော
သူမည်သည်ကား၊ ချီးမြှောက် ခြင်းသို့ ရောက်
လတံ့ဟုမိန့်တော်မူ၏။
၁၅ ထိုအခါ သူငယ်တို့ကို လက်တော်နှင့် တို့စေ
ခြင်းငှါ၊ အထံတော်သို့ဆောင်ခဲ့သည်ကိုတပည့်
၁၆ တော်တို့သည်မြင်လျှင်အပြစ်တင်ကြ၏။- ယေရှု
သည်ထိုသူငယ်တို့ကိုခေါ်တော်မူ၍၊ငါ့ထံသို့လာ
ပါစေ။မမြစ်တားကြနှင့်။ဘုရားသခင်၏နိုင်ငံ
၁၇ တော်သည်ထိုသို့သောသူတို့၏နိုင်ငံဖြစ်၏။-ငါ အ
မှန်ဆိုသည်ကား၊ အကြင်သူသည်ဘုရားသခင်၏

နိုင်ငံတော်ကို သူငယ်ကဲ့သို့ခံမယူ၊ ထိုသူသည်
နိုင်ငံတော်သို့မဝင်ရဟုမိန့်တော်မူ၏။
၁၈ အရာရှိတယောက်က၊ ကောင်းမြတ်သောဆ
ရာ၊ ထာဝရအသက်ကိုအမွေခံရအံ့သောငှါ အ
ကျွန်ုပ်သည်အဘယ်အမှုကိုပြုရပါမည်နည်းဟု
၁၉ မေးလျှောက်သော်၊- ယေရှုက၊ ငါ့ကိုကောင်းမြတ်
သည်ဟုအဘယ်ကြောင့်ခေါ်သနည်း။ ဘုရားသခင်
၂၀ တပါးတည်းသာကောင်းမြတ်တော်မူ၏။- သင်
သည် ပညတ်တော်တို့ကိုသိသည်မဟုတ်လော။
သူ့မယားကိုမပြစ်မှားနှင့်၊ လူ့အသက်ကိုမသတ်
နှင့်၊ သူ့ဥစ္စာကိုမခိုးနှင့်၊ မမှန်သောသက်သေကို
မခံနှင့်၊ မိဘကိုရိုသေစွာပြုလော့ဟု မိန့်တော်မူ
၂၁ လျှင်။- အရှင်ဘုရား၊ ထိုပညတ်ရှိသမျှတို့ကိုငယ်
သောအရွယ်မှစ၍၊ အကျွန်ုပ်စောင့်ရှောက်ပါပြီ
ဟုလျှောက်ပြန်သဉ်ကိုယေရှုသည်ကြားလျှင်၊
၂၂ ထင်သည်တခုလိုသေး၏။- ကိုယ်ဥစ္စာရှိသမျှကို
ရောင်း၍ဆင်းရဲသောသူတို့အားပေးဝေလော့။
ထိုသို့ပြုလျှင်၊ ကောင်းကင်ဘုံ၌ဘဏ္ဍာကိုရလိမ့်
မည်။ ထိုပြီးမှလာ၍ငါ့နောက်သို့ လိုက်လော့ဟု
၂၃ မိန့်တော်မူ၏။- ထိုသူသည်များစွာသောဥစ္စာကို
ရတတ်သောသူဖြစ်၍၊ ထိုစကားကို ကြားလျှင်
အလွန်မိတ်မသာသည်နှင့်သွားလေ၏။
၂၄ ထိုသို့မိတ်မသာသဉ်ကိုယေရှုသည်မြင်တော်
မူလျှင်၊ ဥစ္စာရတတ်သောသူသည်ဘုရားသခင်၏
၂၅ နိုင်ငံတော်သို့ အလွန်ဝင်ခဲလှ၏။- ကုလားအုတ်
သည်အပ်နဖားကိုလျှိုလွယ်၏။ ငွေရတတ်သော
သူသည်ဘုရားသခင်၏နိုင်ငံတော်သို့ ဝင်ခဲသည်
၂၆ ဟုမိန့်တော်မူ၏။- ကြားသော သူတို့ကလည်း၊
ထိုသို့ဖြစ်လျှင်၊ အဘယ်သူသည်ကယ်တင်တော်မူ
ခြင်းသို့ရောက်နိုင်မည်နည်းဟုပြောဆိုကြ၏။-
၂၇ ကိုယ်တော်ကလည်း၊ လူမတတ်နိုင်သော အမှု
ကို ဘုရားသခင် တတ်နိုင် တော် မူသည်ဟု မိန့်
တော်မူ၏။
၂၈ ထိုအခါပေတရုက၊ အကျွန်ုပ်တို့သည် ရှိသမျှ
ကိုစွန့်ပြစ်၍၊ ကိုယ်တော်နောက်သို့ လိုက်ကြပါ
၂၉ ပြီဟုလျှောက်ထားသော်၊- ကိုယ်တော်က၊ ငါအ
မှန်ဆိုသည်ကား၊ အကြင်သူသည် ဘုရားသခင်
၏နိုင်ငံတော်ကြောင့်၊ အိမ်ရာ၊ မိဘ၊ ညီအစ်ကို၊
သားမယားတည်းဟူသောတပါးပါးကိုစွန့်၏၊-
၃၀ ထိုသူသည် ယခုကာလ၌ အဆများစွာသောအ
ကျိုးကိုငှင်၊ နောင်ကာလ၌ ထာဝရအသက်ကိုငှင်
ခံရထတ်ဟုမိန့်တော်မူ၏။

၃၁ ထိုအခါကိုယ်တော်သည်တကျိပ်နှစ်ပါးသော
တပည့်တော်တို့ကိုခေါ်၍၊ ငါတို့သည်ယေရု
ရှလင်မြို့သို့ယခုသွားကြ၏။ ပရောဖက်များရေး
၃၂ မှတ်သမျှသည်လူသား၌ပြည့်စုံရလိမ့်မည်။- တ
ပါးအမျိုးသားတို့ထက်သို့ အပ်နှံခြင်း၊ ကွက်
ရယ်ပြုခြင်း၊ ညှဉ်းဆဲခြင်း၊ တံထွေးနှင့်ထွေးခြင်း
၃၃ ကိုခံရလိမ့်မည်။- သူတို့သည် လူသားကို ရိုက်
ပုတ်၍သတ်ကြလိမ့်မည်၊ သုံးရက်မြောက်သော
၃၄ နေ့၌ ထမြောက်လိမ့်မည်ဟု မိန့်တော်မူ၏။- ထို
စကားတော်တခွန်းကိုမျှ တပည့်တော်တို့သည်
နားမလည်ကြ။ ထိုအကြောင်းအရာသည် ဖုံး
ထားလျက်ရှိသည်ဖြစ်၍၊ မိန့်တော်မူချက်အနက်
ကိုမရိပ်မိကြ။
၃၅ ယေရိခေါမြို့အနီး၌ရှိတော်မူစဉ်တွင်လူကန်း
တယောက်သည်ထမ်းနားမှာထိုင်၍အောင်းစား
၃၆ လေ၏။- ထိုလူကန်းသည်ထမ်း၌လူများသွားသံ
ကိုကြားလျှင်၊ အဘယ်သို့ ဖြစ်သနည်းဟု မေး
၃၇ ၏။- နာဇရက်မြို့သားယေရှုကြွသွားကြောင်းကို
၃၈ သူတပါးပြောလျှင်၊- ဒါဝိဒ်၏သားတော် ယေရှု၊
အကျွန်ုပ်ကို ကယ်မ သ နား တော် မူပါ ဟု ဟစ်
၃၉ ကြော်လေ၏။- ထိုသူကိုတိတ်ဆိတ်စွာနေစေခြင်း
ငှါ၊ ရှေ့တော်၌ သွားသောသူတို့သည် ငေါက်၍
ဆိုကြသော်လည်း၊ ဒါဝိဒ်၏သားတော်၊ အကျွန်ုပ်
ကိုကယ်မသနားတော်မူပါဟုသာ၍ ဟစ်ကြော်
၄၀ လေ၏။- ယေရှုသည်လည်း၊ ရပ်တော်မူလျက်၊
ထိုသူကိုခေါ်ခဲ့ဟုအမိန့်တော်ရှိ၏။ လူကန်းသည်
အထံတော်သို့ချဉ်းကပ်ပြီးမှ၊ သင်၌အဘယ်သို့
၄၁ ပြုစေလိုသနည်းဟု မေးတော်မူလျှင်၊- အရှင်၊
အကျွန်ုပ် မျက်စိ မြင်စေခြင်းငှါ ပြုတော်မူပါဟု
၄၂ လျှောက်လေသော်၊- ယေရှုက၊ မျက်စိ မြင်စေ။
သင်၏ယုံကြည်ခြင်း သည် သင့်ကို ကယ်မပြီဟု
၄၃ မိန့်တော်မူ၏။- ထိုခဏချင်းတွင်ထိုသူသည်မျက်
စိမြင်၍၊ ဘုရား သခင်၏ ဂုဏ်တော်ကို ချီးမွမ်း
လျက်၊ နောက်တော်သို့လိုက်လေ၏။ လူအပေါင်း
တို့သည် မြင်လျှင်၊ ဘုရားသခင်ကို ထံ့ခြောချီး
မွမ်းကြ၏။

၁၉

၁ ယေရှုသည်ယေရိခေါမြို့သို့ဝင်၍ရှောက်သွား
၂ တော်မူ၏။- ထိုအခါဇက္ခဲ အမည်ရှိသောအခွန်
ခေါင်း တယောက်ရှိ၏။ ထို သူသည် ငွေရတတ်
၃ သောသူဖြစ်၏။- ယေရှုသည် အဘယ်သို့သော
သူဖြစ်သည်ကို ထိုသူသည် ကြည့်လို၍၊ လူအစု

အနေဖြင့် ရှည်သောကြောင့်၊ မိမိအရပ်သည်၊ ခိုနိုင်
၄ သည်ဖြစ်၍မမြင်နိုင်။ ထိုကြောင့်၊ ကြွတော်မူ
မည်ထံသစ်တွင်ရှေ့သို့ပြေး၍၊ ကိုယ်တော်ကိုမြင်
၅ ခြင်းငှါ၊သဖန်းပင်ထပ်ထိုးထက်သို့တက်လေ၏။ ထို
အရပ်သို့ ရောက်ရှုသည် ရောက်တော်မူသောအခါ
၆ မျှော်ကြည့်၍ထိုသူကို မြင်တော်မူလျှင်၊- ဇက္ခဲ၊
မြန်မြန်ဆင်းလော့။ ယနေ့ငါသည်၊ သင်၏အိမ်၌သနေငါတည်း
ရှေမည်ဟုမိန့်တော်မူ၏။ ဇက္ခဲသည်အလျင်အမြန်
ဆင်း၍၊ ဝမ်းမြောက်သောစိတ်နှင့် ကိုယ်တော်
၇ ကိုမိမိအိမ်၌ ညှိခံလေ၏။-ထိုအကြောင်းကိုလူ
အပေါင်းတို့သည် မြင်လျှင်၊ ဆိုးသောသူ၏အိမ်
သို့ဝင်၍ တည်းခိုခြင်းကို ခံတော်မူပါသည်တ
၈ ကားဟုကဲ့ရဲ့ အပြစ်တင်ကြ၏။-ဇက္ခဲသည်ထ၍၊
ရပ်နေ၍ သခင်၊ အကျွန်ုပ်၏ဥစ္စာတဝက်ကိုဆင်း
ရဲသော သူတို့အား ပေးပါ၏၊ တစုံ တယောက်
သောသူ၏ဥစ္စာ အနည်းငယ်ကို အကျွန်ုပ် လု မိ
လျှင်၊ လေးဆ ပြန်၍ ပေးပါ၏ ဟု၊ သခင်ဘုရား
၉ ကိုလျှောက်ဆို၏။- ယေရှုကလည်း၊ ဤသူသည်
အာဗြဟံ၏သားဖြစ်သည်နှင့်အလျောက်၊ ယနေ့
ပင်ကယ်တင်တော်မူခြင်းကျေးဇူးသည် ဤအိမ်
၁၀ အပေါ်မှာ သက်ရောက် လေ၏။- လူသား သည်
ပျောက်သောသူတို့ကို ရှာ၍ ကယ်တင်ခြင်းသော
ငှါကြွလာသတည်းဟု၊ဇက္ခဲကိုမိန့်တော်မူ၏။
၁၁ ထိုအခါ ယေရုရှလင်မြို့အနီးသို့ ရောက်တော်
မူ၍၊ ဘုရားသခင်၏ နိုင်ငံတော်သည် ချက် ချင်း
ပေါ်ထွန်းမည်ဟုလူများထင်မှတ်သောကြောင့်၊
ပရိသတ် အထယ်၌ထပ်၍မိန့်တော်မူသောဥပ
၁၂ မာကား၊- အမတ်တယောက်သည်မင်းကြီးအ
ရာကိုခံယူ၍၊ မိမိပြည်သို့ပြန်လာမည်ဟုအကြံ
၁၃ ရှိလျက်၊ဝေးသောပြည်သို့သွား၏။-မသွားမီမိမိ
ငယ်သားတကျိပ်ကိုခေါ်၍၊ငွေတပိဿာစီအပ်
ပေးလျက်၊ ငါ ပြန်၍ မလာမှီ တိုင် အောင် ကုန်
သွယ် ခြင်း အမှုကို ပြုကြလော့ဟု မှာထား လေ
၁၄ ၏။- ပြည်သားအချို့ တို့သည် ထိုအမတ်ကို မနှ
လို၍၊ ထိုသူ၏ အစိုးအချုပ်ကို ငါတို့မခံလိုပါ
၁၅ ဟု၊တမန်ကိုသူနောက်သို့စေလွှတ်ကြ၏။- ထိုအ
မတ်သည် မင်းကြီးအရာကိုခံ၍ ပြန်လာတော်မူ
သောအခါ၊ ငွေခံသောငယ်သားတို့သည် အသီး
အသီးအထယ်မှာထောက် အမြတ်ရသည်ကိုသိ
ခြင်းငှါ၊သူတို့ကိုခေါ်ချေဟု မိန့်တော်မူ၏။
၁၆ ပဌမသူသည် လာ၍၊ သခင်၊ ကိုယ်တော်ပေး
သောငွေတပိဿာအားဖြင့် အမြတ်တဆယ် အ

၁၇ မြတ်ရပါပြီဟုလျှောက်လျှင်၊- သခင်က၊သော်
ငယ်သားကောင်း။ သင်သည်အမှုငယ်၌ သစ္စာ
စောင့်သောကြောင့် မြို့ဆယ်မြို့ကို အုပ်စိုးလော့ဟုမိန့်
၁၈ တော်မူ၏။-ဒုတိယသူသည်လာ၍၊သခင်၊ကိုယ်
တော်ပေးသောငွေတပိဿာအားဖြင့်ငါးပိဿာ
၁၉ အမြတ်ရပါပြီဟုလျှောက်လျှင်၊-သခင်က၊ သင်
သည်မြို့ငါးမြို့ကိုအုပ်စိုးလော့ဟုမိန့်တော်မူ၏။-
၂၀ အခြားသော သူသည် လာ၍၊ သခင်၊ အကျွန်ုပ်
သည်ပုဝါ၌ ထုပ်ထားသော၊ ကိုယ်တော်၏ ငွေ
တပိဿာရှိပါ၏။ကိုယ်တော်သည်ခဲထည်းသော
၂၁ သူဖြစ်သည်နှင့်၊- ကိုယ်မသိုမထားသော ဥစ္စာ
ကို သိမ်းယူ၍၊ ကိုယ်မစိုက် မပျိုးသော ထက်၌
ရိတ်တတ် သည်ကို အကျွန်ုပ် ကြောက်၍ ကိုယ်
တော်ကို ကြောက် ပါသည်ဟု လျှောက် လျှင်၊-
၂၂ သခင်က၊ဆိုးညစ်သောငယ်သား၊ သင်၏စကား
ကိုသာလိုက်၍ သင်၏အမှုကို ငါစီရင်မည်။ ငါ
သည်ခဲယည်းသော သူဖြစ်လျက်၊ ကိုယ်မသို
ထားသောဥစ္စာကိုသိမ်းယူ၍၊ကိုယ်မစိုက်မပျိုး
သောထယ်၌ရိတ်သဖြင့်ကိုသင်သိသည်မှန်လျှင်၊-
၂၃ ငွေကိုပွဲစားထက်သို့အဘယ်ကြောင့်မအပ်သ
နည်း။ထိုသို့အပ်လျှင်ငါပြန်လာသောအခါ၊ငွေ
ရင်းနှင့် အတိုးကို ရနိုင်သည်ဟု မိန့်တော်မူပြီး
၂၄ သော်၊- အခြွေအရံတို့အား၊ ငွေတပိဿာကိုလု
ထက်မှနုတ်ကြ။အမြတ်တဆယ်ရှိသောသူအား
၂၅ ပေးကြဟုမိန့်တော်မူ၏။-အခြွေအရံတို့ကလည်း။
သခင်၊ထိုသူ၌အမြတ်တဆယ်ရှိပါ၏ဟုလျှောက်
၂၆ ကြလျှင်၊- ငါဆိုသည်ကား၊ အကြင်သူသည်ရှိ
တတ်၏၊ထိုသူအားပေးဦးမည်။အကြင်သူသည်မရှိ
ဆင်းရဲ၏၊ ထိုသူ၌ရှိသမျှကိုပင်နှုတ်ယူမည်။-
၂၇ ထိုမှတပါး၊ ငါ၏ အစိုးအချုပ်ကို မခံလိုသော
ငါ ရန်သူ တို့ကို ခေါ်ခဲ့ကြ၊ ငါ့ရှေ့မှာသတ်ကြဟု
စီရင်တော်မူသည်ဟုမိန့်တော်မူ၏။
၂၈ ထိုသို့မိန့်တော်မူပြီးမှ၊ တပည့်တော်တို့ရှေ့၌
ကြွ၍၊ ယေရုရှလင်မြို့သို့ ခရီးသွားတော်မူ၏။
၂၉ သံလွင်အမည်ရှိသောတောင်ခြေရင်း၌ ဗေသ
ဖာဂေရွာနှင့် ဗေသနိရွာအနီးသို့ ရောက် တော်မူ
သောအခါ၊ တပည့်တော် နှစ်ယောက်တို့ကို စေ
၃၀ လွှတ်၍၊- သင်တို့ရှေ့၌ ရှိသောရွာသို့သွားကြ၊
ထိုရွာသို့ ရောက်လျှင်၊ အဘယ် သူမျှ မစီး ဘူး
သောမြည်းကလေးချည်နှောင်လျက်ရှိသည်ကိုသင်
တို့သည်တွေ့လိမ့်မည်။ ဖြေကြ၍ကိုဆောင်
၃၁ ခဲ့ကြ။- သူတပါးက၊အဘယ်ကြောင့် ဖြေကြသနည်း

ဖြည်သနည်းဟုသင်တို့ကိုဆိုလျှင်၊ သခင်အလို
ရှိသည်ဟု ပြန်ပြော ကြ လော့ဟု မှာထား တော်
၃၂ မူ၏။- ထိုသို့စေလွှတ်သော သူတို့သည် သွား၍၊
၃၃ စကားတော်အတိုင်းတွေ့ကြ၏။- မြည်းကိုဖြည်
စည်တွင်မြည်းရှင်တို့က၊ အဘယ်ကြောင့်မြည်းကို
၃၄ ဖြည်သနည်းဟု ဆိုလျှင်၊- သခင် အလိုရှိသည်
ဟု ပြန်ပြောကြ၏။ ယေရှုထံတော်သို့ မြည်းကလေး
၃၅ ကိုဆောင်ခဲ့၍၊- မြည်းကြောပေါ်မှာ မိမိတို့ အဝတ်
၃၆ ကိုတင်ပြီးလျှင်၊ကိုယ်တော်ကိုစီးစေကြ၏။-ခရီး
သွားတော်မူစဉ်တွင်၊ လူများတို့သည်မိမိတို့အ
၃၇ ဝတ်ကိုလမ်း၌ခင်းကြ၏။-သံလွင်တောင်ပေါ်က
ဆင်းရာအရပ်သို့ရောက်တော်မူသောအခါ၊ တ
ပည့် တော် များ အ ပေါင်း တို့သည် မိမိတို့ မြင်ခဲ့
ပြီးသော တန်ခိုး တော်များကိုထောက်၍၊ ဝမ်း
မြောက်သောစိတ်နှင့်ဘုရားသခင်ကိုထောမနာ
၃၈ ပြု၍၊- ထာဝရဘုရား၏ အခွင့်နှင့်ကြွလာတော်
မူသော ရှင်ဘုရင်သည် မင်္ဂလာ ရှိစေသတည်း။
ကောင်းကင်ဘုံ၌ငြိမ်သက်ခြင်းဖြစ်စေသတည်း။
ကောင်း ကင် ထဝတ် ဝယ် ဘုန်း ကြီး ဟိ စေ သ
၃၉ တည်းဟုကျွေးကြော်ကြ၏။-လူအစုအဝေး၌ပါ
သော ဖာရိရှဲ အချို့ တို့က၊ အရှင်ဘုရား၊ ကိုယ်
တော်၏ တပည့် တို့ကို ဆုံးမ ပါဟုလျှောက် ကြ
၄၀ သော်၊- ယေရှုကလည်း၊ ငါဆိုသည် ကား၊ ဤ
သူတို့သည် တိတ်ဆိတ် စွာ နေလျှင်၊ ကျောက်ခဲ
တို့သည်ချက်ချင်းကျွေးကြော်ကြလိမ့်မည်ဟုမိန့်
တော်မူ၏။
၄၁ ယေရု ရှလင်မြို့ အနီးသို့ ရောက်၍ ကြည့်မြင်
၄၂ လျှက် ငိုကြွေးတော်မူ၍၊- အချင်းမြို့၊ သင်၏ငြိမ်
သက်ခြင်းနှင့် စပ်ဆိုင် သော အရာတို့ကို သင်၏
ထက်ထက်၊ယခုကာလ၌ပင် သင်သည်သိရလျှင်
မင်္ဂလာရှိ၏။ ယခုမူကား၊ ထိုအရာတို့ကို သင်၏
မျက်မှောက်မှာ မထင် ရှား စေ ခြင်း ငှါ ဝှက် ထား
၄၃ လျှက်ရှိ၏။-အကြောင်းမူကား၊ သင့်ကိုကြည့်ရှု
ပြုစုတော်မူသော ကျေးဇူးကို သင်သည် မသိမ
မှတ်သောကြောင့်၊သင်၏ရန်သူတို့သည်သင့်ပတ်
လည်တွင် တပ်တည်၍၊ ထေး မျက်နှာ၌ ဝိုင်းရံ
၄၄ လျှက် ချုပ်ထားပြီးလျှင်၊- သင်၏ ကိုယ်မှစ၍၊
သင်၏သားသမီးတို့ကို မြေ နှင့်တညီတည်း ညီသ
ဖြင့်၊သင်၌ကျောက်တခုပေါ်မှာ တခုမျှထပ်ဆင့်
၍မကျန်ရစ်စေခြင်းငှါ ပြုကြသောအချိန်ကာလ
သည်ရောက်လိမ့်မည်ဟုမိန့်တော်မူ၏။
၄၅ မိတ်မှန်တော်သို့ဝင်တော်မူပြီးလျှင်၊ မိတ်မှန်
တော် ၌ ရောင်း ဝယ် သော သူ တို့ ကို နှင် ထုတ်
၄၆ လျှက်၊- ငါ့အိမ်သည်ဆုတောင်းရာအိမ်ဖြစ်၏ဟု
ကျမ်းစာ၌လာသော်လည်း၊သင်တို့သည်ထိုအိမ်
ကိုထားပြတွင်းဖြစ်စေကြပြီတကားဟုမိန့်တော်
၄၇ မူ၏။-ကိုယ်တော်သည်နေ့တိုင်းမိတ်မှန်တော်၌
ဆုံးမဩဝါဒ ပေးတော်မူ၏။ ယဇ်ပုရောဟိတ်အ
ကြီး၊ ကျမ်းပြုဆရာ၊ လူတို့တွင်အကြီးအကဲဖြစ်
သော သူတို့သည်၊ ကိုယ် တော်ကို သတ်ခြင်းငှါ
၄၈ ရှာကြသော်လည်း၊-လူအပေါင်းတို့သည်ဒေသ
နာတော်ကိုစွဲစွဲနားထောင်သောကြောင့်သတ်
နိုင်သောအခွင့်ကိုမတွေ့မရကြ။

၂၀

၁ တနေ့သ၌ကိုယ်တော်သည်မိတ်မှန်တော်တွင်
လူများကို ဆုံးမဩဝါဒပေး၍ ဧဝံဂေလိတရားကို
ဟောတော်မူစဉ်၊ယဇ်ပုရောဟိတ်အကြီး၊ကျမ်း
၂ ပြုဆရာ၊လူအကြီးအကဲတို့သည်လာ၍၊-ကိုယ်
တော်သည် ဤအမှုများကို အဘယ်အ ခွင့်နှင့်ပြု
သည်ကိုရင်၊ ထိုအခွင့်ကို အဘယ်သူပေးသည်
ကိုရင်၊အကျွန်ုပ်တို့အားပြောပါဟုဆိုကြသော်၊-
၃ ကိုယ်တော်က၊ငါသည်တစုံတခုကိုမေးဦးမည်။
၄ သင်တို့ ဖြေ ကြ လော့။- ယောဟန် ၏ နှစ် ခြင်း
တရားသည်ဘုရားကဖြစ်သလော။ လူကဖြစ်သ
၅ လောဟု မေးတော်မူ၏။- ထိုသူတို့သည် အချင်း
ချင်းဆင်ခြင်၍၊ ဘုရားကဖြစ်သည်ဟု ငါတို့ဖြေ
လျှင်၊သင်တို့သည်ယောဟန်ကိုအဘယ်ကြောင့်
မယုံသနည်းဟု သူ ဆေး ထေ ဦးမည်။ လူကဖြစ်
၆ သည်ဟုငါတို့ဖြေလျှင်၊- ယောဟန်သည်ပရော
ဖက်ဖြစ်သည်ကိုလူအပေါင်းတို့သည်ယုံသဖြင့်၊
ငါတို့ကိုကျောက်ခဲနှင့်ပစ်ကြလိမ့်မည်ဟု၊အချင်း
၇ ချင်းဆင်ခြင်ပြီးမှ၊- အဘယ်ကဖြစ်သည်ကို အ
၈ ကျွန်ုပ်တို့မသိပါဟု ပြန်ပြောကြ၏။- ယေရှုက
လည်း၊ ထိုအတူ ဤအမှုများကို အဘယ်အခွင့်
နှင့်ငါပြု သည်ကိုငါ မပြောဟုမိန့်တော်မူ၏။
၉ ထိုအခါ ပရိသတ်တို့အား မိန့်တော်မူသော
ဥပမာကား၊ လူတဦးသည် စပျစ်ဥယျာဉ်ကို စိုက်
ပျိုးပြီးမှ လုပ်ဆောင်သောသူတို့အားဥယျာဉ်ကို
ငှါး၍၊ အခြားသောပြည်သို့ကြာမြင့်စွာသွားနေ
၁၀ ၏။-ကာလအချိန်တန်လျှင်၊လုပ်ဆောင်သောသူ
တို့သည်စပျစ်သီးအချို့ကိုပေးစေခြင်းငှါဥယျာဉ်
ရှင်သည် ငယ်သားကို စေလွှတ်လေ၏။ ဥယျာဉ်
စောင့်တို့သည် ငယ်သားကို ရိုက်၍ ထုတ်ချည်း
၁၁ လွှတ်လိုက်ကြ၏။- နောက်တဖန်၊ အခြားသော

ငယ်သားကိုစေလွှတ်ပြန်လျှင်၊ ဥယျာဉ်စောင့်တို့
သည် ထုကို ရိုက်၍ အရှက်ခွဲပြီးမှ၊ လက်ချည်း
၁၂ လွှတ်လိုက်ကြ၏။- နောက် တဖန် အခြား၊ ၎ ၂၁
ငယ်သားကို စေလွှတ်ပြန်လျှင်၊ ထုကို ဒဏ်ရာ
ပေါ်စေအောင် နာကြင်စွာရိုက်၍ နှင်ထုတ်ကြ၏။-
၁၃ ထိုအခါ ဥယျာဉ်ရှင်က၊ ငါသည် အဘယ်သို့ပြုရ
မည်နည်း။ ငါ၏ချစ်သားကို ငါစေလွှတ်မည်။ ထို
သူတို့သည် သားကိုမြင်လျှင်၊ အားနာကောင်း
၁၄ အားနာကြလိမ့်မည်ဟုဆို၏။- ဥယျာဉ်စောင့်တို့
သည်သားကိုမြင်လျှင်၊ ဤသူသည် အမွေခံဖြစ်
၏။ လာကြ၊ သူကိုသတ်ကြကုန်အံ့။ ထိုသို့သူ၏အ
မွေဥစ္စာကို ငါတို့ရကြလိမ့်မည်ဟု၊ အချင်းချင်း
၁၅ တိုင်ပင်ပြီးမှ၊- ဥယျာဉ်ရှင်၏သားကို ဥယျာဉ်ပြင်
သို့ထုတ်၍ သတ်ပြစ်ကြ၏။ သို့ဖြစ်လျှင်၊ ဥယျာဉ်
ရှင်သည် ဥယျာဉ်စောင့်တို့ကို အဘယ်သို့ပြုမည်
၁၆ နည်း။- ဥယျာဉ်ရှင်သည် လာ၍ ထိုသူတို့ကို သုတ်
သင်ပယ်ရှင်းပြီးမှ၊ ထိုဥယျာဉ်ကို အခြားသောသူ
တို့အား ပေးလိမ့်မည်ဟု မိန့်တော်မူ၏။ ပရိသတ်
တို့ သည် ကြား လျှင်၊ ထိုသို့ မဖြစ် ပါ စေနှင့် ဟု
၁၇ လျှောက် ကြသော်၊- ကိုယ်တော်သည် ထိုသူတို့
ကိုကြည့်ရှု၍၊ တိုက်ကို တည်လုပ်သော သူများ
ပယ်ထားသောကျောက်သည် နောက်တဖန် တိုက်
ထောင့် အထွဋ်ဖျား သို့ ရောက် ပြန် ၏ ဟူ သော
ကျမ်းစာချက်သည် အဘယ်သို့ဆိုလိုသနည်း။-
၁၈ အကြင်သူသည် ထိုကျောက် အပေါ်သို့ ကျ၏၊
ထိုသူသည် ကျိုးလတံ့။ အကြင်သူ၏ အပေါ်သို့
ထိုကျောက်သည်ကျ၏၊ ထိုသူသည် ညက်ညက်
၁၉ ကြေလတံ့ဟု မိန့်တော်မူ၏။- ထိုအခါ ယဇ်ပုရော
ဟိတ်အကြီး၊ ကျမ်းပြုဆရာ တို့သည် မိမိတို့ကို
ရည်စောင်၍ ထို ဥပမာ စကား ကို ဟော ပြော
တော်မူသည်ကို သိသောကြောင့်၊ ကိုယ်တော်ကို
ဖမ်းဆီး ခြင်းငှါ ရှာကြံ ကြ၏။ သို့သော်လည်း၊
လူများကို ကြောက်၍ နေရကြ၏။
၂၀ ထိုအခါ ဖာရိရှဲတို့သည် ကိုယ်တော်ကို ချောင်း
မြောင်းလျက်၊ စကားတော်၌ အပြစ်ကို ရှာ၍ မြို့
ဝန်မင်းလက်သို့ အပ်နှံသော အခွင့်ကို ရခြင်းငှါ၊
သူတော်ကောင်း ဖြစ် ဟန်ဆောင်သော သူလျှို
၂၁ တို့ကို အထံတော်သို့ စေလွှတ်ကြ၏။- ထို သူလျှို
တို့က၊ အရှင်ဘုရား၊ ကိုယ်တော်သည် လူမျက်
နှာကို မထောက်ဘဲ၊ ဖြောင့်မတ်စွာ ဆုံးမ ဩဝါဒ
ပေး၍၊ ဘုရားသခင်၏တရားလမ်းကို ဟုတ်မှန်
စွာပြတော်မူသည်ကို အကျွန်ုပ်တို့ သိကြပါ၏။-

၂၂ အကျွန်ုပ်တို့သည် ကဲသာဘုရင်အား အခွန်ကို
ဆက်အပ်သလော၊ မဆက်အပ်သလောဟု မေး
၂၃ လျှောက်ကြ၏။- ကိုယ် တော်သည် ထို သူတို့၏
ပရိယာယ်ကို သိမှတ်တော်မူလျှင်၊ သင်တို့သည်
ငါ့ကို အဘယ် ကြောင့် စုံစမ်း နှောင့် ရှက် ကြ သ
၂၄ နည်း။- ဒေနာရိတပြားကို ပြပါ။ အဘယ်သူ၏ပုံ၊
အဘယ်သူ၏လိပ်စာပါသနည်းဟု မေးတော်
မူလျှင်၊ ကဲသာဘုရင်၏ပုံ၊ လိပ်စာ ပါသည်ဟု
၂၅ လျှောက်ကြသော်၊- ကိုယ်တော်က၊ ကဲသာဘုရင်
၏ဥစ္စာကို၊ ကဲသာဘုရင်အား ဆက်ပေးကြလော့။
ဘုရားသခင်၏ ဥစ္စာကိုကား၊ ဘုရားသခင်အား
၂၆ ဆက်ပေးကြလော့ဟု မိန့် တော်မူ၏။- ထိုသူတို့
သည်လူများရှေ့တွင် စကားတော်၌ အပြစ်မတွေ့
နိုင်သဖြင့်၊ ပြန်ပြော တော် မူသော စကားကို အံ့
ဩ၍ တိတ်ဆိတ်စွာနေကြ၏။
၂၇ ထ မြောက် ရှင် ပြန် ခြင်း မရှိ ဟု ငြင်း ခုံ တတ်
သော ဇဒ္ဒုကဲ အချို့ သည်လည်း အထံတော်သို့
၂၈ ချဉ်းကပ်၍၊- အရှင်ဘုရား၊ မယားရှိသော သူ
သည်သားမရှိဘဲ သေလျှင်၊ သူ၏မယားကို သူ့ညီ
သိမ်းယူ၍ အစ်ကို အမျိုး မပြတ် ဆက် နွယ်စေ
၂၉ ဟု၊ အကျွန်ုပ်တို့အား မောရှေစီရင်ပါပြီ။- ညီအစ်
ကိုခုနစ်ယောက်ရှိပါ၏။ အစ်ကိုအကြီးသည် မိန်း
၃၀ နှင့်စုံဖက်၍ သားမရှိဘဲ သေလျှင်၊- သူ၏ မယား
ကို သူ့ညီအကြီး သိမ်းယူ၍ သားမရှိဘဲ သေပြန်
၃၁ လေ၏။- ထိုအတူ တတိယသူမှစ၍၊ တယောက်
နောက်တယောက်၊ ခုနစ်ယောက်သော ညီအစ်
ကို တို့သည် ထိုမိန်းမကို သိမ်းယူ၍ သားကို မကျန်
၃၂ ရစ်စေဘဲ သေကြ၏။- နောက်ဆုံး၌ မိန်းမသည်လည်း
၃၃ သေလေ၏။- သို့ဖြစ်၍၊ ထမြောက်ရာကာလ၌ ထို
မိန်းမသည် အဘယ်သူ၏မယားဖြစ်ရပါမည်နည်း။
ထိုသူခုနစ်ယောက်တို့သည် ထိုမိန်းမနှင့် စုံဖက်ကြ
ပြီဟု လျှောက်ကြ၏။
၃၄ ယေရှုကလည်း၊ ယခုဘဝသားတို့သည် စုံဖက်
ခြင်း၊ ထိမ်းမြားပေးစားခြင်းကို ပြုတတ်ကြ၏။-
၃၅ နောင်ဘဝကို၎င်း၊ သေခြင်းမှ ထမြောက်ခြင်းကို
၎င်း၊ ရထိုက်သည် ဟု မှတ် တော် မူ ခြင်း ကို ခံရ
သောသူတို့သည် စုံဖက်ခြင်း၊ ထိမ်းမြားပေးစား
၃၆ ခြင်းကိုမပြုတတ်ကြ။- သေခြင်းနှင့် အစည်းကင်း
လွတ်၍၊ ကောင်းကင်တမန်ကဲ့သို့ ဖြစ်သည်သာ
မက၊ ထမြောက် ခြင်း၏ သား ဖြစ်သောကြောင့်
၃၇ ဘုရားသခင်၏သားဖြစ်ကြ၏။- ထိုမှတပါး၊ မော
ရှေသည် ထာဝရ ဘုရား ကို အာဗြဟံ၏ဘုရား၊

ဣဇာက်၏ဘုရား၊ ယာကုပ်၏ ဘုရားဟု မြွက်ဆို၏၊
၌ခေါ်ဝေါ်သော အခါ သေလွန်သော သူတို့သည်
၃၈ ထမြောက်ကြောင်းကိုဖော်ပြပြီ။-ဘုရားသခင်
သည် သေနေသော သူတို့၏ဘုရား မဟုတ်၊ အ
သက်ရှင်သော သူတို့၏ဘုရား ဖြစ်တော်မူ၏၊ ထို
သူအပေါင်းတို့သည် ဘုရားသခင်၌ အသက်ရှင်
၃၉ ကြသည်ဟု မိန့်တော်မူ၏။- ကျမ်းပြုဆရာအချို့
တို့က၊ အရှင်ဘုရား၊ ကိုယ်တော်၏ စကားသည်
၄၀ လျှောက်ပတ်ပါ၏ဟုလျှောက်ကြ၏။- နောက်တ
ဖန်အလျှင်းမမေးမလျှောက်ဝံ့ကြ။
၄၁ ယေရှုကလည်း၊ ခရစ်တော်သည် ဒါဝိဒ်၏
သား ဖြစ်သည် ဟု အဘယ် ကြောင့် ဆိုကြသ
၄၂ နည်း။-ဒါဝိဒ်၏စကားမှာ၊ ထာဝရဘုရားက၊ သခင်
၏ ရန်သူတို့ကိုသင်၏ခြေတင်ရာ ငါမချမထားမှီ
တိုင်အောင် ငါ့လက်ျာဘက်၌ ထိုင်နေလော့ဟု၊-
၄၃ ငါ့သခင်အား မိန့်တော်မူသည်ဟု၊ ဆာလံကျမ်း
၄၄ တ၌ ဒါဝိဒ်ဆိုသတည်း။- ထိုသို့ဒါဝိဒ်သည်ခရစ်
တော်ကို သခင်ဟူ၍ခေါ်လျှင်၊ အဘယ်သို့သူ၏
သားဖြစ်သနည်းဟုမေးတော်မူ၏။
၄၅ ပရိသတ်များ နား ထောင်စဉ် တွင် တပည့်
တော်တို့ အား၊ တဖန် မိန့် တော် မူသည် ကား၊-
၄၆ ကျမ်းပြုဆရာတို့ကိုရှောင်ကြလော့၊ သူတို့သည်
ရှည်သောအင်္ကျီကို ဝတ်လျက် လည်ခြင်းငှါ အ
လိုရှိကြ၏၊ ဈေး၌ ရိုသေစွာ နှုတ် ဆက်ခြင်းကို
နှင်း၊ ပွဲသဘင်၊ တရားဇရပ်တို့၌မြင့်မြတ်သောနေ
၄၇ ရာထိုင်ရာကိုင်နှစ်သက်ကြ၏၊-သူတို့သည် မုဆိုး
မအိမ်ကိုလုယူသိမ်းစား၍၊ အပြစ်မပေါ်စေခြင်း
ငှါ ရှည်စွာသော ပဌနာစကားကို ရွတ်တတ်ကြ
၏၊ ထိုသူတို့သည်သာ၍ ကြီးစွာသောဒဏ်ကိုခံ
ရကြလတ့်ဟုမိန့်တော်မူ၏။

၁ ထိုနောက်၊ ကိုယ်တော် သည် မျှော်ကြည့် ၍၊
ငွေရတတ်သောသူတို့သည် အလှူဒါနကိုအလှူဘဏ္ဍာ
၂ တိုက်ထဲသို့သွင်းချသည်ကိုမြင်တော်မူ၏။-ဆင်း
ရဲသော မုဆိုးမတယောက်သည်လည်း၊ ကြေးနီ
ဒင်္ဂါး နှစ်ပြားသွင်းချသည်ကိုမြင်တော်မူလျှင်၊-
၃ ငါအမှန်ဆိုသည်ကား၊ ထိုဆင်းရဲသော မုဆိုးမ
သည် အခြားသော သူအပေါင်းတို့ထက် သာ၍
၄ သွင်းချပြီ။- အကြောင်းမူကား၊ ထိုသူအပေါင်း
တို့သည် မိမိတို့ကြွယ်ဝသောစည်းစိမ်ထဲက နှုတ်
၍၊ ဘုရားသခင်၏အလှူတော်စုထဲသို့ သွင်းချကြ
၏၊ ထိုမိန်းမမူကား၊ အလွန်ဆင်းရဲလျက်ပင်မိမိအ
သက်မွေးစရာ ငွေရှိသမျှကို သွင်းချလေပြီဟု
မိန့်တော်မူ၏။
၅ လူအချို့တို့သည် သာ၍၊ ဗိမာန်တော်အဆင်
တန့်တယ်သော ကျောက်ပြားနှင့်၎င်း၊ ပူဇော်သ
ကာများနှင့်၎င်းဆင်ယင်လျက်ရှိပါ၏ဟု လျှောက်
၆ ကြလျှင်၊-ကိုယ်တော်က၊ ဤအရာများကိုသင်တို့
သည် ယခုမြင်ရကြ၏၊ မပြိုမပျက်ဘဲ ကျောက်တခု
ပေါ်မှာ တခုမှ မတည်မနေရသောအချိန်ကာလ
၇ ရောက်လိမ့်မည်ဟုမိန့်တော်မူ၏။-သူတို့ကလည်း၊
အရှင်ဘုရား၊ ထိုအမှုအရာတို့သည်အဘယ်ကာ
လမှာဖြစ်ပါမည်နည်း၊ ထိုအမှုအရာတို့သည်ဖြစ်
မည်နီးသောအခါ အဘယ်ပုဗ္ဗနိမိတ် ပေါ်ထွန်း
၈ ပါမည်နည်းဟု မေး လျှောက် ကြလျှင်၊- ကိုယ်
တော်က၊ သင်တို့သည်လှည့်ဖြားခြင်းသို့မလိုက်
မပါမည် အကြောင်း သတိ ပြုကြလော့၊ အများ
သောသူတို့က၊ ငါသည် ဤမည်သောသူဖြစ်၏၊
အချိန်ကာလသည် ရောက်လာပြီဟု ဆိုလျက်၊
ငါ၏အရောင်ကိုဆောင်၍ပေါ်လာကြလိမ့်မည်၊
၉ ထိုသူတို့နောက်သို့မလိုက်ကြနှင့်၊-သင်တို့သည်
စစ် တိုက် ခြင်း အကြောင်း၊ ပုန် ကန် ခြင်း အ
ကြောင်းကို သိတင်း ကြားရသောအခါ၊ မိုးမိုက်
တုန်လှုပ်ခြင်းမရှိကြနှင့်၊ ထိုအမှုအရာများသည်
အရင်ဖြစ်ရမည်၊ သို့သော်လည်း၊ အဆုံးသည်
အလျှင်အမြန်မဖြစ်သေး။
၁၀ ထိုမှတပါး၊ လူတမျိုးနှင့်တမျိုး၊ တနိုင်ငံနှင့်တ
၁၁ နိုင်ငံရန်ဘက်ပြုကြလိမ့်မည်။-အရပ်ရပ်တို့၌ကြီး
စွာသောမြေလှုပ်ခြင်း၊ အစာခေါင်းပါးခြင်း၊ ကာလ
နာ များပြားခြင်းတို့သည် ဖြစ်ကြ လိမ့်မည်၊
မိုဃ်း၊ ကောင်းကင်၌ လည်း၊ ကြောက်မက်ဖွယ်
သောအရာနှင့် ကြီးစွာသော ပုဗ္ဗနိမိတ်တို့သည်
၁၂ ပေါ်ထွန်းကြလိမ့်မည်။- ထိုအမှုအရာများမဖြစ်
မှီလူများတို့သည်ငါ၏နာမကြောင့်သင်တို့ကိုဖမ်း
ဆီးညှဉ်းဆဲ၍၊ တရားဇရပ်၌၎င်း၊ ထောင်ထဲ၌
၎င်းအပ်နှံကြလိမ့်မည်၊ ရှင်ဘုရင်၊ ဝန်မင်းထံသို့
၁၃ ပို့ဆောင်ကြလိမ့်မည်။- ထိုသို့ သော အား ဖြင့်
သင်တို့သည်သက်သေခံရသော အခွင့်ရှိကြလိမ့်
၁၄ မည်။- ထိုကြောင့်၊ သင်တို့သည်အဘယ်သို့ပြန်
ပြောရမည်ကိုရှေးမဆွကာ၊ မဆင်ခြင်ခြင်းငှါသန္နိဋ္ဌာန်
၁၅ ထားကြလော့။- အကြောင်းမူကား၊ ရန်သူအ
ပေါင်း တို့ သည် မငြင်းနိုင် မထန့် တား နိုင် သော
၁၆ နှုတ်သတ္တိ၊ ပညာသတ္တိကိုငါပေးမည်။-သင်တို့
မိဘ၊ ညီအစ်ကို၊ ပေါက်ဖော်၊ အဆွေခင်ပွန်းတို့

သည်သင်တို့ကိုအပ်နှံကြလိမ့်မည်။ အချို့တို့ကို
၁၇ သည်။ သတ်ကြလိမ့်မည်။-လူအပေါင်းတို့သည်
လည်း၊ ငါ၏နာမကြောင့် သင်တို့ကို မုန်းကြလိမ့်
၁၈ မည်။-သို့သော်လည်း၊ သင်တို့ဆံခြည်တပင်မျှမ
၁၉ ပျက်စီးရ။- သင်တို့သည်တည်ကြည်သောအား
ဖြင့်ကယ်တင်ခြင်းသို့ရောက်ကြလော့။
၂၀ ယေရုရှလင်မြို့ကို ဗိုလ်ခြေများ ဝန်းရံလျက်ရှိ
သည်ကိုသင်တို့မြင်သောအခါ၊ ထိုမြို့သည်ပျက်
စီးခြင်းသို့ရောက်လုသည်ကို သိမှတ်ကြလော့။-
၂၁ ထိုအခါ ယုဒပြည်၌ ရှိသောသူတို့သည် တောင်
ပေါ်သို့ပြေးကြစေ။ မြို့ထဲ၌ရှိသောသူတို့သည် မြို့
ပြင်သို့ ထွက်ကြစေ။ တောရွာမှာ ရှိသော သူတို့
၂၂ သည် မြို့ထဲသို့ မဝင်ကြစေနှင့်။- အကြောင်းမူ
ကား၊ ထိုနေ့ရက်ကာလသည်ကျမ်းစာချက်များ
ပြည့်စုံရသောဒဏ်စီရင်ခြင်းနေ့ရက်ကာလဖြစ်
၂၃ သတည်း။- ထိုနေ့ရက်၌ကိုယ်ဝန်ဆောင်သော
မိန်းမနှင့် နို့နို့ သူငယ် ရှိသော မိန်းမတို့သည် အမွန်
ခက်ကြလိမ့်မည်။ အကြောင်းမူကား၊ ယုဒပြည်
၌ကြီးစွာသောဆင်းရဲဒုက္ခဖြစ်၍၊ ယုဒအမျိုးအ
၂၄ ပေါ်၌ အမျက်ဒေါသသင့်ရောက်လိမ့်မည်။- သူ
တို့သည် ထားဘေး ဖြင့် ပျက်စီးခြင်းသို့ ရောက်
ကြလိမ့်မည်။ အခြားသောပြည်အရပ်ရပ်သို့ဖမ်း
သွားကြလိမ့်မည်။ တပါးအမျိုးသား တို့သည်
မိမိတို့အချိန်ကာလမပြည့်စုံမှီတိုင်အောင်ယေရု
ရှလင်မြို့ကိုခြေနှင့်နင်းကြလိမ့်မည်။
၂၅ ထိုအခါ၊ နေ၊ လ၊ ကြယ်နက္ခတ်တို့၌ ပုပ္ပနိမိတ်
ထင်ရှားလိမ့်မည်။ မြေကြီးပေါ်မှာလည်း၊ လူအ
မျိုးမျိုး မငြိမ်မသက် မိုးရိပ်ကြောင့်ကြခြင်း၊
၂၆ သမုဒ္ဒရာ လှိုင်းတံပိုး ကြီးခြင်း။- မြေကြီးပေါ်မှာ
ဖြစ်လတ့်သော ဘေး များကို မျှော်၍ ကြောက်
လန့်သဖြင့်၊ လူများတို့၏အသက်ဆုံးခြင်းအမှုအ
ရာတို့သည်ဖြစ်ကြလိမ့်မည်။ အကြောင်းမူကား၊
ကောင်းကင် တန်ခိုး တို့သည် တုန်လှုပ် ကြလိမ့်
၂၇ မည်။-ထိုအခါလူသားသည်ကြီးစွာသောဘုန်း
တန်ခိုးအာနုဘော်ကိုဆောင်လျက်၊ မိုဃ်းတိမ်
ထိုင်စီးလျက်ကြွလာသည်ကိုမြင်ရကြလိမ့်မည်။-
၂၈ ထိုအမှုအရာတို့သည်ဖြစ်စရှိသောအခါ၊ သင်တို့
ကို ရွေးနှုတ်သော အချိန်ကာလ ရောက်လုနီး
သည်ကိုသိသဖြင့်၊ မျှော်ကြည့်၍ခေါင်းကို
ထူကြလော့ဟုမိန့်တော်မူ၏။
၂၉ တဖန် ထပ်၍ မိန့်တော်မူသော ဥပမာစကား၊
သင်္ဘောသဖန်းပင်မှစ၍ သစ်ပင်များတို့ကို မှတ်
၃၀ ကြလော့။- အရွက်ပေါက်သောအခါနွေကာလ
နီးသည်ကို သင်တို့သည် အလိုအလျောက် သိ
၃၁ မြင်ကြ၏။-ထိုနည်းတူ၊ ထိုအကြောင်းအရာများ
ဖြစ်သည်ကိုမြင်ရလျှင်၊ ဘုရားသခင်၏နိုင်ငံတော်
၃၂ တည်လုနီးသည်ကိုသိမှတ်ကြလော့။- ငါအမှန်
ဆိုသည်ကား၊ ယခုဖြစ်သောလူများမကုန်မှီ၊ ထို
အကြောင်းအရာ ခပ်သိမ်းတို့သည် ဖြစ်ကြလိမ့်
၃၃ မည်။- ကောင်းကင်နှင့် မြေကြီး ပျက်သော်
၃၄ လည်း၊ ငါ့စကားတည်လိမ့်မည်။- သင်တို့သည်
ကိုယ်ကို ကိုယ်သတိ ပြုကြလော့။ သို့မဟုတ်၊
အစား အသောက် လွန်ကျူးခြင်း၊ လောကီ မိုး
ရိပ်ခြင်းအားဖြင့် စိတ်နှလုံး ပင်ပန်းလျက် နေ
စဉ်တွင်၊ ထိုနေ့ရက်သည် အမှတ်တမဲ့ သင်တို့
၃၅ နှင့် တွေ့ကြုံ လိမ့်မည်။- ထိုနေ့ရက် သည် ဗိုက်
ကွန်ကဲ့သို့ မြေတပြင်လုံး၌ နေသောလူအပေါင်း
၃၆ တို့ကိုအုပ်မိလိမ့်မည်။- ထိုကြောင့်၊ သင်တို့သည်
ဖြစ်လတ့်သော အမှုအရာတို့နှင့် ကင်းလွတ်၍၊
လူသား ထံသို့ ရောက်ခြင်း ကို ခံထိုက် သော သူ
ဖြစ်သည် ဟု မှတ်တော်မူစေခြင်းအကြောင်း၊ အ
စဉ်ဆုတောင်းလျက် စောင့်နေကြလော့ဟု မိန့်
တော်မူ၏။
၃၇ ထိုသို့ကိုယ်တော်သည်နေ့ရက်အစဉ်အတိုင်း
ဗိမာန်တော်၌ဆုံးမဩဝါဒပေးတော်မူ၏။ ညအ
ချိန်ရောက်လျှင်၊ သံလွင်အမည်ရှိသော တောင်
၃၈ သို့သွား၍ညဉ့်ကိုလွန်စေတော်မူ၏။-နံနက်စော
စော လူများအပေါင်းတို့သည် ဗိမာန်တော်သို့
သွား၍ အထံတော်၌ စကားတော် ကို နား
ထောင်ကြ၏။

## ၂၂

၁ ပသခါ အမည်ရှိသော အဇုမပွဲခံခါနီးတွင်၊-
၂ ယဇ်ပုရောဟိတ်အကြီးတို့နှင့် ကျမ်းပြုဆရာတို့
သည်ကိုယ်တော်ကို အဘယ်သို့သတ်ရအံ့နည်း
ဟု ရှာကြံကြ၏။ အဘယ်ကြောင့်ရှာကြံရကြသ
နည်းဟူမူကား၊ လူများတို့ကို ကြောက်ကြ၏။-
၃ ထိုအခါ စာတန်သည်တပည့်တော် တကျိပ်နှစ်
ပါးအဝင်ဖြစ်သော ယုဒရှကာရုတ် အထဲသို့ ဝင်
၄ သည်ဖြစ်၍၊- ထိုသူသည် ယဇ်ပုရောဟိတ် အ
ကြီးများ၊ ဗိမာန်တော်မှူးများတို့ထံသို့သွား၍
လျှင်၊ ယေရှုကိုအဘယ်သို့ အပ်ရမည်နည်းဟု
၅ ၍တိုင်ပင်လေ၏။- ထိုသူတို့သည် ဝမ်းမြောက်
၆ သောစိတ်ရှိ၍၊ ငွေပေးမည်ဟုဝန်ခံကြ၏။-ယုဒ
ရှကာရုတ်သည်လည်း၊ ဝန်ခံပြီးမှ လူများမရှိစဉ်

တွင်၊ ကိုယ်တော်ကို အပ်ခြင်းငှါ အဆင်သင့်
သောအချိန်ကာလကိုရှာကြံလျက်နေ၏။
၇ ပသခါ သိုးသငယ်ကိုသတ်ရသော နေ့တည်း၊
၈ တည်းသောအရှုမပွဲနေ့ရောက်သောအခါ၊- ကိုယ်
တော်က၊ ငါတို့ စားဖို့ရာ သင်တို့ သည် သွား၍
ပသခါ ပွဲကို ပြင်ဆင် ကြလော့ဟု၊ ပေတရု နှင့်
၉ ယောဟန် ကို စေ လွှတ် တော် မူ ၏။- သူတို့ က
လည်း၊ အဘယ် အရပ်၌ ပြင်ဆင် စေခြင်းငှါ အ
လိုရှိတော်မူသနည်းဟု မေးလျှောက်ကြသော်၊-
၁၀ ကိုယ်တော်က၊ သင်တို့သည် မြို့ထဲသို့ဝင်သော
အခါ ရေအိုးဆောင်သော သူကို တွေ့လိမ့် မည်။
ထိုသူနောက်သို့လိုက်၍သူဝင်သော အိမ်သို့ဝင်
၁၁ ပြီးမှ၊- ငါသည် ငါတပည့်တို့နှင့်တကွပသခါပွဲ
ကိုစားရသော ဧည့်သည် အခန်းကား၊ အဘယ်
မှာရှိသနည်း၊ ဆရာကမေးသည်ဟု၊ အိမ်ရှင်ကို
၁၂ ပြော ကြ လော့။- ထိုသူ သည် ပြင်ဆင် လျက် ရှိ
သော အထက် အခန်းကြီးကို ပြလိမ့်မည်။ ထိုအ
၁၃ ခန်း၌ ပြင်ဆင် ကြ လော့ ဟု မိန့်တော် မူ၏။- တ
ပည့်တော်တို့သည်သွား၍စကားတော်အတိုင်း
တွေ့လျှင်၊ပသခါ ပွဲကိုပြင်ဆင်ကြ၏။
၁၄ အချိန်ရောက်မှ၊တမန်တော်တကျိပ်နှစ်ပါးတို့
၁၅ နှင့်အတူ စား၊ ပွဲ၌လျောင်းတော်မူ၍၊- ငါသည်အ
သေမခံမှီ၊ ဤပသခါပွဲကို သင်တို့ နှင့် အတူ စား
၁၆ ခြင်းငှါအလွန်အလိုရှိသေပြီ။-ငါဆိုသည်ကား၊
ဘုရားသခင်၏ နိုင်ငံတော်၌ ပသခါ ပွဲမပြည့်စုံမှီ
တိုင်အောင်ယခုမှစ၍၊ ဤပွဲကိုတဖန် ငါမစားရ
၁၇ ဟုမိန့်တော်မူလျက်၊- ခွက်ဖလားကိုယူ၍ကျေး
ဇူးတော်ကိုချီးမွမ်းပြီးမှ၊ဤခွက်ကိုယူ၍အချင်း
၁၈ ချင်းဝေကြလော့၊-ငါဆိုသည်ကား၊ဘုရားသခင်
၏ နိုင်ငံ တော် မတည် မှီ တိုင်အောင် ယခုမှစ၍၊
စပျစ်ရည်ကို တဖန်ငါမသောက်ရဟု မိန့်တော်မူ
၁၉ ၏။- ထိုအခါ မုန့်ကိုယူ၍ ကျေးဇူးတော်ကိုချီး
မွမ်းပြီးမှမုန့်ကိုဖဲ့၍၊ဤမုန့်ကား၊ သင်တို့အဖို့အ
လို့ငှါ စွန့်သောငါ၏ ကိုယ်ဖြစ်၏။ ငါ့ကိုအောက်
၂၀ မေ့မှုရာ ဤသို့ပြုကြလော့ဟုမိန့်တော်မူ၏။- ထို
နည်းတူ၊ ညစာစားပြီးမှခွက်ကိုလည်းယူ၍၊ ဤ
ခွက်ကား၊ သင်တို့အဖို့အလို့ငှါ သွန်းသောငါ၏
အသွေး၌ တည်သော ပဋိညာဉ်တရားသစ် ဖြစ်
၂၁ ၏။-သို့သော်လည်း၊ငါ့ကိုအပ်နှံသောသူ၏လက်
၂၂ သည် ဤစားပွဲပေါ်မှာ ငါနှင့်အတူရှိ၏။- လူ၏
သားသည် မှတ်သားတော်မူသည်အတိုင်းသွားရသည်
သွားရမည်၊ သို့သော်လည်း၊ လူသားကိုအပ်နှံ
သောသူသည် အမင်္ဂလာရှိ၏ဟု မိန့်တော်မူ၏။-
၂၃ တပည့်တော်တို့သည်လည်း၊ ထိုအမှုကိုပြုလတံ့
သူပြုဖို့နည်းဟု၊အချင်းချင်းမေးမြန်းကြ၏။
၂၄ ထို့မှတပါး၊ တပည့်တော်တို့သည် မိမိတို့တွင်
အဘယ်သူသည်သာ၍ကြီးမြတ်သနည်းဟု၊အ
၂၅ ချင်းချင်း ငြင်းခုံခြင်းရှိသည်ဖြစ်၍၊- ကိုယ်တော်
က၊ လောကီမင်းတို့သည် အမျိုးတရုပ်ပြုတတ်ကြ
၏။အာဏာထားသောသူတို့ကိုလည်း ကျေးဇူး
၂၆ ရှင်ဟူ၍ခေါ်ဝေါ်ကြ၏။-သင်တို့မူကား၊ထိုသို့မ
ပြုကြနှင့်၊ သင်တို့တွင်အကဲအမှူးပြုသော သူကို
ငယ်သားကဲ့သို့ဖြစ်စေ။ အုပ်စိုးသောသူကိုအစေ
၂၇ အစေခံကဲ့သို့ဖြစ်စေ။- အဘယ်သူသည် သာ၍
ကြီးမြတ်သနည်း။ စားပွဲ၌လျောင်းသောသူထင်
ကြီးမြတ်သလော၊ လုပ်ကျွေးသောသူသည်ကြီး
မြတ် သလော၊ စားပွဲ၌ လျောင်း သော သူသည်
ကြီးမြတ်သည်မဟုတ်လော၊သို့သော်လည်း၊ငါ
သည် သင်တို့တွင် လုပ်ကျွေးသောသူကဲ့သို့ ဖြစ်
၂၈ ၏။-ငါသည်စုံစမ်းနှောင့်ရှက်ခြင်း၊ကိုခံစဉ်တွင်
၂၉ သင်တို့သည်ငါ၌မှီဝဲသောသူဖြစ်ရာ၏။-ခမည်း
တော်သည် ငါအား နိုင်ငံကို ပေး တော်မူသည်နှင့်
၃၀ အညီ၊-သင်တို့သည်ငါ၏နိုင်ငံတွင်ငါ၏စားပွဲ၌စား
သောက်သောအခွင့်ကိုငှင်၊တရားပလ္လင်ပေါ်မှာ
ထိုင်၍ ဣသရေလလူတဆယ်နှစ်မျိုးကို အုပ်စိုး
ရသော အခွင့်ကိုငှင်၊ ငါသည်သင်တို့အား ပေး
မည်ဟုမိန့်တော်မူ၏။
၃၁ တဖန်သခင်ဘုရားက၊ရှိမုန်၊ ရှိမုန်၊ဂျုံဆန်ကို
ဆန်ခါနှင့် ချသကဲ့သို့ စာတန်သည် သင်တို့ကို ချ
ရမည်အကြောင်းအခွင့်တောင်းသည် ဖြစ်၍၊-
၃၂ သင်၏ ယုံကြည်သော စိတ်မပျက်စေခြင်းငှါ ငါ
သည် သင့်အဖို့ ဆုတောင်းလေပြီ။ သင်သည်ထ
တိရပြန်သောအခါသင်၏ညီအစ်ကိုတို့ကိုတည်
၃၃ ကြည်စေလော့ဟုမိန့်တော်မူလျှင်၊- ပေတရုက၊
သခင်၊ အ ကျွန်ုပ် သည် ကိုယ် တော် နှင့် အ တူ
ထောင်ထဲသို့၎င်၊ အသေသတ်ခြင်းသို့၎င် လိုက်
၃၄ ခြင်းငှါအသင့်ရှိပါ၏ဟုလျှောက်လေသော်၊- အ
ခင်ဘုရားက၊ ပေတရု၊ ငါဆိုသည်ကား၊ ယနေ့
တွင် ကြက်မတွန်မှီ သင်သည် ငါ့ကိုမသိဟု၊ သုံး
ကြိမ် ငြောင်း ငြင်းပယ် လိမ့်မည်ဟု မိန့်
တော်မူ၏။
၃၅ တဖန် မိန့်တော်မူသည်ကား၊ အထက်က ငွေ
အိတ်၊လွယ်အိတ်၊ခြေနင်းမပါဘဲသွားကြလော့
ဟု၊ သင်တို့ကို ငါစေလွှတ်သောအခါ တစုံတခု

ထိုအသောထုမေးလျှင် တစုံတခုမျှမလိုပါ ထု
၃၆ လျှောက်ကြသော်၊- ထိုမူကား၊ ငွေအိတ်ရှိ
သောသူသည်ယူစေ၊ လွယ်အိတ်ရှိသောသူသည်
ယူစေ၊ ဓားမရှိသောသူသည် အဝတ်ကိုရောင်း
၃၇ ၍ ဓားကိုဝယ်စေ၊- အကြောင်းမူကား၊ ထိုသူ
သည် မတရားသောသူတို့နှင့် ရေတွက်ဝင်ခြင်း
သို့ရောက်၏ ဟုသော ကျမ်းစာ စကား ထည် ငါ၌
ထ ပြည့်စုံရမည်၊ ငါ့အမှုအရာတို့သည် ပြီး
၃၈ မီးခြင်းသို့ရောက်ကြပြီဟုမိန့်တော်မူ၏။- ထိုသူ
တို့က ထည်။ ထခင်၊ ထား နှစ်စင်း ရှိပါ၏ဟု
လျှောက်လျှင်၊တန်ပြီဟုမိန့်တော်မူ၏။
၃၉ ထိုနောက်၊ အလေ့ တော်ရှိသည် အတိုင်း ထံ
လွန်တောင်သို့ထွက်ကြွတော်မူ၍၊တပည့်တော်
၄၀ တို့သည်နောက်တော်သို့လိုက်ကြ၏။- ထိုအရပ်
သို့ရောက်တော်မူလျှင်၊သင်တို့သည်စုံစမ်းနှောင့်
ရှက်ခြင်း နှင့် ကင်း လွတ် မည် အကြောင်း ဆု
၄၁ တောင်းကြလော့ဟု မိန့်တော်မူပြီးမှ၊- တပည့်
တော်တို့နှင့်ကျောက်ခဲတပြစ်လောက်ခွါ သွား၍
၄၂ ဒူးထောက်လျက်၊- အိုအဘ၊ အလိုတော်ရှိလျှင်၊
ဤ ခွက် ကို အကျွန်ုပ်မှ ဖွဲ တော် မူပါ၊ သို့ သော်
ထည်း အကျွန်ုပ်အလိုရှိသည်အတိုင်း မဖြစ်ပါ
စေနှင့်၊ ကိုယ် တော်အလိုရှိသည် အတိုင်း ဖြစ်
၄၃ ပါစေသောဟု ဆုတောင်းတော်မူ၏။- ထိုအခါ
ကောင်းကင်တမန်သည် ထင်ရှားလာ၍ ကိုယ်
၄၄ တော်ကိုအား ပေးရ၏။- ပြင်းစွာသော ဝေဒနာ
ကိုခံလျက်၊ အထူးသဖြင့်ကြိုးစား၍ ဆုတောင်း
တော်မူ၏၊ချွေးထွက်တော်မူသည်ကား၊မြေပေါ်
၄၅ ၌ကျသောသွေးစက်ခဲကဲ့သို့ဖြစ်သတည်း။- ထို
သို့ ဆုတောင်း ပြီးမှ၊ ယေရှုသည် ထ၍ တပည့်
တော်တို့ရှိရာသို့ပြန်သောအခါ၊ သူတို့သည်ဝမ်း
နည်းသော စိတ်ရှိသည်နှင့် အိပ် ပျော် လျက် နေ
၄၆ ကြသည်ကိုတွေ့တော်မူလျှင်၊- သင်တို့သည်အ
ထယ်ကြောင့်အိပ်ပျော်ကြသနည်း၊ထကြ၊စုံစမ်း
နှောင့်ရှက် ခြင်း နှင့် ကင်း လွတ်မည် အကြောင်း
ဆုတောင်းကြလော့ဟုမိန့်တော်မူ၏။
၄၇ ထိုသို့ မိန့် တော် မူစည် တွင်ပင် တပည့်တော်
တကျိပ်နှစ်ပါး အဝင် ဖြစ် သော ယုဒရှကာရုတ်
ထည်၊ လူအပေါင်းတို့ကို ထမ်းပြလျက် သာ၍၊
၄၈ ယေရှုကိုနမ်းခြင်းငှါ ချည်းကပ်သော၏။- ယေရှု
ကထည်း၊ ယုဒ၊ သင်သည်နမ်းခြင်းကိုပြုလျက်
၄၉ လူသားကိုအပ်ထသလောဟုမေးတော်မူ၏။- ယေ
ရှုနှင့်အတူပါသောသူတို့သည်ဖြစ်လွှဲသောအမှု
ကိုမြင်လျှင်၊ ထခင်၊ အကျွန်ုပ်တို့သည်ထားနှင့်
၅၀ ခုတ်ရပါမည်လောဟု မေးလျှောက်ပြီးမှ၊- ထ
ယောက် သည် ယဇ်ပရောဟိတ် မင်း၏ ကျွန်ထ
ယောက်ကိုခုတ်သဖြင့်၊ထကျွန်နားရွက်ပြတ်လေ
၅၁ ၏။- ယေရှုကလည်း၊ တန်စေဟု မိန့် တော်မူ၍၊
နားရွက်ကို ထက် တော် နှင့် တို့ သဖြင့် အနာကို
၅၂ ပျောက်စေတော်မူ၏။- ထိုအခါ အ ထံ တော် သို့
ရောက်လာသော ယဇ်ပရောဟိတ်အကြီး၊ ဗိမာန်
မှန်တော်မှူး၊ လူအကြီးအကဲတို့ကား ယေရှုက၊
သင်တို့သည် ထားခြကို ဖမ်းသကဲ့သို့ ငါ့ကို ဖမ်း
ခွဲ့သော၄ှါ၊ ထားနှင့်ဒုတ်များကို ထက်စွဲလျက်
၅၃ လာကြသည်တကား။- ငါသည်ဗိမာန်တော်၌
သင်တို့နှင့်အတူ ရှိနေစည်အခါ သင်တို့သည်ငါ
ကိုမဖမ်းမဆီးကြ၊ သို့သော်ထည်း၊ ယခုအချိန်
ကား သင်တို့ အချိန် ဖြစ်၏၊ မှောင် မိုက် ထန်မှိုး
ထည်း ဖြစ်၏ဟု မိန့်တော်မူ၏။
၅၄ ထိုသူတို့သည်ကိုယ်တော်ကိုဖမ်းဆီး၍ ယဇ်
ပရောဟိတ်မင်း၏အိမ်သို့ဆောင်သွားကြ၏၊ပေ
တရုသည်ထည်းသူတို့နှင့်ဝေးစွာလိုက်သော၏။-
၅၅ အိမ်ဦးအထယ်၌မီးမွေးပြီးမှ၊လူများတို့သည်စု
ဝေး၍ ထိုင်ကြလျှင်၊ ပေတရုသည်ထည်း သူတို့
၅၆ အထဲ၌ထိုင်နေ၏။- ထိုသို့ပေတရုသည်မီးအရောင်
မှာ ထိုင်နေသည်ကို အစေ ခံ ပါ မိန်း တယောက်
သည်မြင်လျှင်၊သူကိုစေ့စေ့ကြည့်၍၊ဤသူသည်
ယေရှုနှင့် ပေါင်း ဖော် သော သူ ဖြစ် သည်ဟု ဆို
၅၇ သော်၊-ပေတရုက၊အချင်းမိန်းမ၊ထိုသူကိုငါမသိဟု
၅၈ ငြင်းလေ၏။-ထိုနောက်များမကြာမမြင့်အခြားသော
သူသည် ပေတရုကို မြင်လျှင်၊ သင်သည်ထည်း
ထိုသူတို့အဝင်ဖြစ်သည်ဟုဆိုသော်၊ ပေတရုက၊
အချင်းလူ၊ငါသည်သူတို့အဝင်မဟုတ်ဟုဆို၏။-
၅၉ တပန် တနာရီလောက် ကြာပြီးမှ၊ အခြား သော
သူက၊ အကယ်စင်စစ်ဤသူသည်ယေရှုနှင့်ပေါင်း
ဖော်သောသူဖြစ်၏၊ ဂါလိလဲလူသည်၊ ဖြစ်၏ဟု
၆၀ မိုင်မာစွာဆိုလျှင်၊- ပေတရုက၊အချင်းလူ၊သင်
ပြောသောအရာကိုငါမသိဟု ဆို၏၊ ထိုစကားကို
၆၁ ပြောသောခဏချင်းတွင် ကြက်ဖွတ်လေ၏။- ထို
အခါသခင်ဘုရားသည် လှည့်၍ပေတရုကိုကြည့်
တော်မူ၏၊ ကြက် မတွန်မှီ သင်သည် သုံးကြိမ်
မြောက် အောင် ငါ့ကို ငြင်းပယ် လိမ့် မည် ဟု မိန့်
တော်မူသောစကားကို၊ ပေတရုသည်ထထိရသ
၆၂ ဖြင့်၊-ပြင်သို့ထွက်၍ပြင်းစွာငိုကြွေးလေ၏။
၆၃ ယေရှုကိုကိုင်ထွဲသောသူတို့သည်ကိုယ်တော်

၆၄ ကိုဖုံးရယ်ပြု၍မျက်ပုတ်ကြ၏။-ရှုတ်နှာတော်
ကို ဖုံးပြီးလျှင် လက်နှင့်ပုတ်လျက်၊ ကိုယ်တော်
ကိုအဘယ်သူပုတ်သနည်းကို၊ပရောဖက်ပြု၍ဟော
၆၅ တော်မူပါဟုဆိုကြ၏။-အခြားသောစကားများ
ဖြင့်လည်း ကိုယ်တော်ကို ကဲ့ရဲ့၍ ပြောဆိုကြ
သေး၏။
၆၆ မိုဃ်းလင်းသောအခါလူတို့တွင်အကြီးအကဲ
ဖြစ်သောသူ၊ ယဇ်ပရောဟိတ်အကြီး၊ကျမ်းပြု
ဆရာတို့သည်စည်းဝေး၍၊ကိုယ်တော်ကိုလွှတ်
၆၇ တော်သို့ဆောင်သွားပြီးလျှင်၊- သင်သည်ခရစ်
တော်မှန်လျှင်၊ ငါတို့အား ပြောလော့ဟု ဆိုကြ
၏။ယေရှုကလည်း၊ ငါပြောလျှင်သင်တို့သည်မ
၆၈ ယုံ။-ငါမေးလျှင်လည်းသင်တို့သည်မဖြေဘဲ၊ ငါ
၆၉ ကို မလွှတ်ဘဲ နေကြလိမ့်မည်။- နောင်၌ လူသား
သည် ဘုရားသခင်၏ တန်ခိုးတော်လက်ျာဘက်
၇၀ ၌ထိုင်တော်မူလတံ့ဟုမိန့်တော်မူသော်၊- ထိုသူ
အပေါင်းတို့က၊သို့ဖြစ်၍သင်သည်ဘုရားသခင်
၏ သားတော်မှန်သည် တကားဟု ဆိုကြလျှင်၊
သင်တို့ဆိုသည်အတိုင်း၊ မှန်သည်ဟု မိန့်တော်မူ
၇၁ ၏။- ထိုသူတို့ကလည်း၊ အဘယ်သက်သေ လို
သေးသနည်း၊ သူ၏စကားကို ငါတို့ ကိုယ်တိုင်
ကြားရပြီဟုဆိုကြ၏။

၂၃

၁ ထိုအခါ မင်းအရာရှိ အပေါင်းတို့သည်ထ၍၊
ကိုယ်တော်ကိုပိလတ်မင်းထံသို့ ဆောင်သွားကြ
၂ ပြီးလျှင်၊-ဤသူသည်ပြည်သူပြည်သားများကို
ဖျက်ဆီးခြား၍၊မိမိသည်ခရစ်တော်တည်းဟူသော
ရှင်ဘုရင်ဖြစ်ကြောင်းကိုဆိုလျက်၊ကဲသာဘုရင်
ကို အခွန်မဆက်နှင့်ဟု မြစ်တားသည်ကို၊ အ
၃ ကျွန်ုပ်တို့တွေ့ပါပြီဟုအပြစ်တင်ကြ၏။- ပိလတ်
မင်းက၊ သင်သည်ယုဒရှင်ဘုရင်မှန်သလောဟု
ယေရှုကို မေးလျှင်၊ မင်းကြီးမေးသည်အတိုင်း
၄ မှန်သည်ဟုမိန့်တော်မူ၏။-ပိလတ်မင်းက၊ဤသူ
၌ အဘယ်အပြစ်ကိုမျှ ငါမတွေ့ဟု၊ ယဇ်ပရော
ဟိတ်အကြီးတို့နှင့် လူအပေါင်းတို့အားပြောဆို
၅ လျှင်၊- ထိုသူတို့သည်သာ၍ပြင်းစွာသောအသံ
နှင့်ဟစ်ကြော်လျက်၊ဤသူသည်ဂါလိလဲပြည်မှစ
၍ ဤအရပ်တိုင်အောင်၊ ယုဒပြည်၌ အနှံ့အပြား
ဆုံးမဩဝါဒပေး၍၊ လူများကို နှိုးဆော်သောသူ
၆ ဖြစ်ပါသည်ဟုလျှောက်ဆိုကြ၏။- ပိလတ်မင်း
သည်ဂါလိလဲဟူသောစကားကိုကြားလျှင်၊ ထို
သူသည်ဂါလိလဲလူဖြစ်သလောဟုမေးမြန်း၍၊-
၇ ဟေရုဒ်မင်းပိုင်သောသူဖြစ်သည်ကိုသိသောအ
ခါထိုမင်းထံသို့ပို့စေ၏။ထိုအခါဟေရုဒ်မင်းသည်
ယေရုရှလင်မြို့၌ရှိသတည်း။
၈ ထိုမင်းသည် ယေရှုကို မြင်လျှင် အလွန်ဝမ်း
မြောက်ခြင်းရှိ၏။အကြောင်းမူကား၊အထက်က
သိတင်းတော်များကိုကြား၍၊ကိုယ်တော်ကိုမြင်
ခြင်းငှါကြာမြင့်စွာအလိုရှိသည်ဖြစ်၍၊ပြုတော်
မူသောနိမိတ်လက္ခဏာ တစုံတခုကို မြင်ရမည်
၉ ဟု မျှော်လင့်လျက်နေ၏။- ထိုအခါ ဟေရုဒ်မင်း
သည် ကိုယ်တော်ကို များစွာမေးမြန်းသော်
၁၀ လည်း၊အဘယ်စကားကိုမျှပြန်တော်မမူ။- ယဇ်
ပရောဟိတ်အကြီးနှင့် ကျမ်းပြုဆရာတို့သည်ထ
၁၁ ၍ ပြင်းထန်စွာ အပြစ်တင်ကြ၏။- ဟေရုဒ်မင်း
သည် စစ်သူရဲတို့နှင့်တကွ ကိုယ်တော်ကို မစန့်
မညားဘဲ ပြက်ရယ်ပြု၍၊ တင့်တယ်သော အ
ဝတ်ကို ဝတ်စေပြီးမှ ပိလတ်မင်းထံသို့ ပို့ပြန်စေ
၁၂ ၏။-ထိုနေ့၌ပိလတ်မင်းနှင့်ဟေရုဒ်မင်းတို့သည်
အချင်းချင်းအဆွေဖွဲ့ကြ၏၊ အထက်ကရန်သူ
ဖြစ်ကြသတည်း။
၁၃ တဖန်ပိလတ်မင်းသည် ယဇ်ပရောဟိတ်အ
၁၄ ကြီး၊မင်းအရာရှိ၊လူများတို့ကိုခေါ်၍၊-ပြည်သူ
ပြည်သားများကို ဖောက်ပြန်စေသောသူကဲ့သို့၊ ဤ
လူကိုသင်တို့သည်ငါ့ထံသို့ပို့ဆောင်ကြသည်ဖြစ်
၍၊သင်တို့ရှေ့မှာ ငါစစ်ကြောသော်လည်း၊ သင်
တို့တင်သောအပြစ်တစုံတခုကိုမျှသူ၌ငါမတွေ့။-
၁၅ ဟေရုဒ်မင်းသည်လည်း မတွေ့၊ ထိုမင်းထံသို့ငါ
ပို့စေပြီ၊ ဤသူသည်အသေသတ်ခြင်းကိုခံထိုက်
၁၆ သောအမှုတစုံတခုကိုမျှမပြု၊-ထိုကြောင့်၊သူကို
၁၇ ငါဆုံးမ၍လွှတ်မည်ဟုဆိုသော်၊-ထိုပွဲ၌လူများ
တို့အား တစုံတယောက်သောသူကို မလွှတ်ဘဲမ
၁၈ နေရသတည်း။- လူအပေါင်းတို့က၊ ထိုသူကို
ထုတ်ပါလော့၊ အကျွန်ုပ်တို့အား ဗာရဗ္ဗကို လွှတ်
ပါလော့ဟု၊ တညီတညွတ်တည်း ဟစ်ကြော်ကြ
၁၉ ၏။-ထိုဗာရဗ္ဗကား၊ မြို့၌ပုန်ကန်ခြင်းအပြစ်၊လူ
အသက်ကို သတ်ခြင်းအပြစ်ကြောင့်၊ ထောင်ထဲ
၌လှောင်ထားသောသူဖြစ်သတည်း။
၂၀ ပိလတ်မင်းသည် ယေရှုကို လွှတ်ချင်သော
၂၁ ကြောင့်သူတို့အားတဖန်ပြောဆိုသော်၊- သူတို့
ကလည်း၊ ထိုသူကို လက်ဝါးကပ်တိုင်မှာ ရိုက်
၂၂ ထားပါ၊ ရိုက်ထားပါဟု ဟစ်ကြော်ကြ၏။- ပိ
လတ်မင်းက၊ထိုသူသည်အဘယ်အပြစ်ကိုပြုဘိ
သနည်း၊ သေထိုက်သော အပြစ်တစုံတခုမျှသူ၌

ငါမတွေ့။ ထိုကြောင့်၊ ဆုံးမ၍လွှတ်မည်
၂၃ ဟု၊ သုံးကြိမ်မြောက်အောင်ဆိုလျှင်၊ လူများတို့
သည်၊ ထိုသူကိုလက်ဝါးကပ်တိုင်မှာမှိုတ်ထား
စေခြင်းငှါ၊ ကြီးစွာသော အသံနှင့် ကြပ်ကြပ်
တောင်းသဖြင့်၊ သူတို့၏ အသံနှင့် ယဇ်ပုရော
၂၄ ဟိတ် အကြီးတို့၏ အသံ သည် နိုင် သော်။- ပိ
လတ်မင်းသည်လည်း၊ သူတို့တောင်းသည်အ
၂၅ တိုင်း ဖြစ်စေခြင်းငှါ စီရင်၍၊- ပုန်ကန်ခြင်း အ
ဖြစ်၊ လူ အသက် ကို သတ်ခြင်း အပြစ်ကြောင့်
ထောင် ထဲ မှာ လှောင်ထားသော သူကို၊ လူများ
တောင်းသည်အတိုင်းလွှတ်ပြီးမှ၊ ယေရှုကို သူ
တို့အလိုသို့အပ်လိုက်လေ၏။
၂၆ ကိုယ်တော်ကို ထုတ်သွားကြစဉ်၊ ရှိမုန် အ
မည်ရှိသောကုရေနေမြို့သားတယောက်သည်
တောရွာမှ လာသည်ကို သူတို့သည် တွေ့လျှင်၊
ဖမ်းဆီး၍ ယေရှုနောက်တော်၌ လက်ဝါးကပ်
၂၇ တိုင်တော်ကို ထမ်းစေကြ၏။- နောက်တော်၌
လိုက်သောလူများအပေါင်းတို့တွင်၊ ကိုယ်တော်
ကြောင့် ငိုကြွေးမြည်တမ်းသော မိန်းမအချို့ ပါ၏။-
၂၈ ထိုသူတို့ကိုယေရှုသည် လှည့်ကြည့်၍၊ ယေရုရှ
လင်မြို့သူတို့၊ ငါ့ကြောင့်မငိုကြွေးကြနှင့်။ မိမိတို့
၂၉ နှင့်မိမိတို့သားများကြောင့်ငိုကြွေးကြလော့။-အ
ကြောင်းမူကား၊ မြုံသော မိန်းမသည် မင်္ဂလာ ရှိ၏။
ပဋိသန္ဓေမယူဘူးသောဝမ်းနှင့်၊ သူငယ်မနို့ဘူး
သောသခြတ်သည်မင်္ဂလာရှိ၏ဟု၊ ပြောရသော
၃၀ နေ့ရက်ကာလရောက်လိမ့်မည်။- ထိုအခါသူတို့
ကား၊ တောင်များတို့၊ ငါတို့အပေါ်သို့ကျကြပါ။
အိုကုန်းများတို့၊ ငါတို့ကို ဖုံးအုပ်ကြပါဟု ခေါ်
၃၁ ကြလိမ့်မည်။- အကြောင်းမူကား၊ စိမ်းသော
အပင်ကို ဤသို့ပြုကြလျှင်၊ ခြောက်သောအပင်၌
အဘယ်သို့ဖြစ်လိမ့်မည်နည်းဟုမိန့်တော်မူ၏။-
၃၂ ထိုအခါကိုယ်တော်နှင့် အတူလူဆိုးနှစ်ယောက်
တို့ကိုလည်းသတ်အံ့သောငှါ ထုတ်သွားကြ၏။
၃၃ ကရာနိ အမည်ရှိသော အရပ်သို့ ရောက်ကြ
သော်၊ ကိုယ်တော် နှင့် တကွ ထို လူ ဆိုး တို့ ကို
လက်ျာတော်ဘက်၌ တယောက်၊ လက်ဝဲတော်
ဘက်၌တယောက်၊ လက်ဝါးကပ်တိုင်မှာ မှိုတ်
၃၄ ထားကြ၏။- ယေရှုကလည်း၊ အိုအဘ၊ သူတို့၏အ
ပြစ်ကိုလွှတ်တော်မူပါ။ သူတို့သည် ကိုယ်ပြုသော
အမှုကို မသိကြဟု မြွက်ဆိုတော်မူ၏။ အဝတ်
၃၅ တော်ကိုလည်း စာရေးတံချ၍ ဝေဖန်ကြ၏။- လူ
များတို့သည်လည်း ကြည့်ရှုလျက်ရပ်နေကြ၏။

ထိုသူတို့နှင့်အတူ မင်းအရာရှိတို့က၊ ဤသူသည်
သူတပါးတို့ကို ကယ်တင်ထ၏။ ခရစ်တော်
တည်း၊ ဘုရားသခင် ရွေးကောက်တော်မူ
သောသူမှန်လျှင်၊ ကိုယ်ကိုကယ်တင်ပါစေတော့
၃၆ ဟု၍ပြက်ရယ်ပြုကြ၏။- စစ်သူရဲတို့သည်လည်း
၃၇ ထ၍ ပုံးရည်ကိုကပ်ပေးလျက်၊- သင်သည်ယုဒ
ရှင်ဘုရင်မှန်လျှင်၊ ကိုယ်ကိုကယ်တင်လော့ဟု
၃၈ ၍ပြက်ရယ်ပြုလျက်ဆိုကြ၏။- ခေါင်းတော်ပေါ်
မှာတပ်၍၊ အပြစ်စောင်ပြသော စာနည်း ထိပ်စ
ရွက် ဟူမူကား၊ ဤ သူ သည် ယုဒ ရှင်ဘုရင်ပေ
တည်းဟု၊ ဟေဗြဲဘာသာ၊ ဟေလသဘာသာ၊
ရောမဘာသာအားဖြင့် ရေး၍ခေါင်းတော်ပေါ်
မှာတပ်ထားသတည်း။
၃၉ ဆွဲထားသော လူ ဆိုး နှစ် ယောက် တွင် တ
ယောက်က၊ သင်သည်ခရစ်တော်မှန်လျှင်၊ ကိုယ်
ကို၊ ငါတို့ကို ကယ်တင် တော့ ဟု၊ ကိုယ်
၄၀ တော်ကိုကဲ့ရဲ့၍ဆိုလေ၏။- တယောက်မူကား၊
မိမိအဖော်ကိုဆုံးမ၍၊ သင်သည်ဤသူနည်းတူအ
ပြစ်ဒဏ်ခံလျက်ပင်၊ ဘုရားသခင်ကိုမကြောက်
၄၁ သလော။-ငါတို့သည်ကိုယ်ပြုမိသော အပြစ်နှင့်
အလျောက်ခံရသည်ဖြစ်၍ တရားသဖြင့်ခံရကြ
၏။ ဤသူမူကား၊ အဘယ်အပြစ်ကိုမျှ မပြုဟု ဆို
၄၂ ပြီးလျှင်၊- သခင်၊ ကိုယ်တော်သည် နိုင်ငံတော်
တည်လျက်ကြွလာတော်မူသောအခါ အကျွန်ုပ်
ကိုအောက်မေ့တော်မူပါဟု၊ ယေရှုကိုလျှောက်
၄၃ ဆို၏။- ယေရှုကလည်း၊ ငါအမှန်ဆိုသည်ကား၊
ယနေ့တွင်သင်သည် ငါနှင့်အတူပရဒိသုဘုံ၌ရှိ
လိမ့်မည်ဟုမိန့်တော်မူ၏။
၄၄ ထိုအချိန်သည် မွန်းတည့်အချိန်လောက်ဖြစ်
၍၊ သုံးချက်တီးအချိန်တိုင်အောင် မြေတပြင်လုံး
၄၅ ၌မှောင်မိုက်အတိဖြစ်လေ၏။- နေအရောင်ကွယ်
ပျောက်လေ၏။ ဗိမာန်တော်၏ကုလားကာသည်
၄၆ နှစ်ခြားကွဲလေ၏။- ယေရှုသည်လည်း ကြီးသော
အသံနှင့် ကျူးကြော်တော်မူပြီးလျှင်၊ အိုအဘ၊
အကျွန်ုပ်ဝိညာဉ်ကို ကိုယ်တော်လက်၌ အ
ကျွန်ုပ် အပ်ပါ၏ဟု မိန့် တော်မူလျှက်၊ အသက်
၄၇ ချုပ်တော်မူ၏။- ထိုအခြင်းအရာတို့ကို တပ်မှူး
သည် မြင်လျှင်၊ စင်စစ် ဤ သူ သည် ဖြောင့် မတ်
သောသူ မှန်ပေ၏ဟု ဆို၍၊ ဘုရားသခင်ကို ချီး
၄၈ မွမ်းလေ၏။- ထိုအမှုကို အကြည့်အရှုလာသော
သူအပေါင်းတို့သည်၊ ထိုအခြင်းအရာ များကို
၄၉ မြင်လျှင်ရင်ပတ်ကိုခတ်၍ပြန်သွားကြ၏။- ဂါ

ထိုထဲ ပြည်မှ နောက်တော်သို့ လိုက်လာသော
မိန်းမတို့နှင့်၊ ကိုယ်တော်ကို သိကျွမ်းသော သူ
အပေါင်းတို့ သည်လည်း အဝေးက ကြည့်ရှု၍
ရပ်နေကြ၏။
၅၀ ထိုအခါယုဒပြည်အရိမသဲမြို့သား၊ယောသပ်
အမည်ရှိသော လွှတ်အရာရှိ တယောက်သည်၊
အခြားသော လွှတ်အရာရှိ တို့၏ တိုင်ပင် မှီ ရင်
၅၁ ခြင်း ကို ဝန်ခံသောသူ မဟုတ်။- ဘုရားသခင်၏
နိုင်ငံတော် ကို မျှော်လင့်သော သူ တော်ကောင်း
သူတော်မြတ် ဖြစ် သည် နှင့်၊ ပိလတ်မင်း ထံသို့
၅၂ ဝင်၍၊- ယေရှု၏ အလောင်းတော်ကို တောင်း
၅၃ လေ၏။- အလောင်းတော်ကိုချ၍၊ ပိတ်ချောနှင့်
ပတ်ရစ်ပြီးလျှင်၊ တယောက် ကိုမျှ မသင်းဂြိုဟ်
ဘူးသော ကျောက် သင်းချိုင်း တွင်း၌ ထားလေ
၅၄ ၏။-ထိုနေ့ကားအထိမ်းနေ့ဖြစ်၍ဥပုသ်နေ့အချိန်
၅၅ နီးသတည်း။- ဂါလိလဲပြည်က ကိုယ်တော်နှင့်
အတူ လာသော မိန်းမ များသည် သင်းချိုင်း တော်
ကိုငုံ၍ အလောင်း တော် ကို အဘယ် သို့ ထား
၅၆ သည်ကိုငုံ့ အကြည့်အရှု လိုက်လာကြ၏။- ထို
နောက်မှပြန်သွားပြီးလျှင်၊ဆီမွှေးနှင့်နံ့သာမျိုး
ကိုပြင်ဆင်၍၊ ပညတ်တော်အတိုင်း ဥပုသ်နေ့၌
အလုပ်မလုပ်ဘဲနေကြ၏။

၂၄

၁ ခုနစ်ရက်တွင် ပဌမနေ့ရက်၊ အာရုဏ်တက်
သောအချိန်၌၊ ထိုမိန်းမတို့သည် အခြားသော မိန်းမ
တို့နှင့်တကွ၊ မိမိတို့ ပြင်ဆင်သော နံ့သာ မျိုးကို
ဆောင်လျက်၊ သင်းချိုင်းတော်သို့ သွားကြ၏။-
၂ ရောက်သောအခါ၊ တွင်းဝ၌ပိတ်သောကျောက်
သည် လိမ့်ထန်လျက် ရှိသည်ကို တွေ့မြင်၍ အ
၃ တွင်းသို့ ဝင်သော်၊- သခင် ယေရှု၏ အလောင်း
၄ တော်ကိုမတွေ့ကြ။-ထိုအကြောင်းကြောင့်သူတို့
သည် တွေးတောသော စိတ် ရှိစဉ်တွင်၊ လူနှစ်
ယောက်တို့သည် ပြိုးပြိုးပြက်ပြက်သော အဝတ်
၅ ကို ဝတ်ဆင်လျက် ပေါ်လာ၏။- ထိုမိန်းမ တို့သည်
ကြောက်လန့်သော စိတ်နှင့် ငုံ့၍နေစဉ်တွင်၊ ထို
သူတို့က၊ သင်တို့ သည် အသေကောင် ရှိရာ အ
ရပ်၌ အသက် ရှင်သော သူကို အဘယ် ကြောင့်
၆ ရှာကြသနည်း။-ဤအရပ်၌မရှိ၊ထမြောက်တော်
၇ မူပြီ။- လူသားသည် ဆိုးသော သူတို့ လက်သို့
အပ်နှံခြင်း၊ လက်ဝါးကပ်တိုင်မှာ အသေသတ်
ခြင်းကိုခံရမည်။ သုံးရက်မြောက်သော နေ့၌ ထ
မြောက်လိမ့်မည်ဟု၊ ဂါလိလဲ ပြည်၌ ရှိတော်မူ
စဉ်၊ သင်တို့အား မိန့်တော် မူသော စကား ကို
၈ အောင်းမေ့ကြဦးဟုဆိုကြသည်ရှိသော်၊-ထိုမိန်း
၉ မတို့သည်စကားတော်ကိုသတိရ၍၊- သင်းချိုင်း
တော်ကပြန်လျှင်၊ ထိုအကြောင်း အရာ အလုံးစုံ
တို့ကို တကျိပ်တပါးသော သူမှစ၍ ကြွင်းသော
တပည့်တော်အပေါင်းတို့အားပြန်ကြားကြ၏။
၁၀ ထို အကြောင်း အရာကို တမန် တော်တို့အား
ပြောသောသူကား၊ မာဂဒလမာရိ၊ ယောဟန္နာ၊
ယာကုပ်၏အမိဖြစ်သောမာရိမှစ၍အခြားသော
၁၁ မိန်းမများဖြစ်သတည်း။-သူတို့၏စကားကိုဗလွာဘိ
စကား ကဲ့သို့ ထင်မှတ်၍၊ တမန်တော် တို့သည်
၁၂ မယုံကြ။- သို့သော်လည်း၊ ပေတရုသည် ထ၍
သင်းချိုင်းတော်သို့ ပြေးလေ၏။ ရောက်သောအ
ခါငုံ့ကြည့်၍ ပိတ်ပုဆိုးသာ ရှိရစ်သည်ကို မြင်
လျှင်၊ထိုအကြောင်းအရာကိုအံ့ဩ၍မိမိအိမ်
သို့ပြန်သွား၏။
၁၃ ထိုမှတပါး၊တပည့်တော်နှစ်ယောက်တို့ထဲ၊
ယေရုရှလင် မြို့ နှင့် ခရီးဝေး တိုင် ကွာ သော
ဧမောက် အမည်ရှိသောရွာသို့၊ ထိုနေ့၌သွားကြ
၁၄ စဉ်တွင်၊- ဖြစ်ခဲ့ပြီးသော အကြောင်းအရာ အ
လုံးစုံတို့ကိုအချင်းချင်းဆွေးနွေးပြောဆိုကြ၏။-
၁၅ ထိုသို့ဆွေးနွေးပြောဆိုကြစဉ်တွင်၊ ယေရှုသည်
၁၆ ချဉ်းကပ်၍သူတို့နှင့်အတူကြွတော်မူ၏။-ထိုသူ
တို့သည်မျက်စိချုပ်လျက်ရှိ၍၊ ကိုယ်တော်ဖြစ်
၁၇ သည်ကိုမသိကြ။- ကိုယ်တော်ကလည်း၊ သင်
တို့သည် ခရီးသွားလျက် အချင်းချင်း ဆွေးနွေး
သောစကားကား၊အဘယ်သို့သောစကားနည်း။
အဘယ်ကြောင့် မျက်နှာ ညှိုးငယ်ကြ သနည်း
၁၈ ဟုမေးတော်မူလျှင်၊-သူတို့တွင်ကလောပအမည်
ရှိသော သူက၊ သင်သည် ယေရုရှလင်မြို့၌ ဧည့်
သည် ဖြစ်လျက်သာ၊ ယခုအခါထိုမြို့၌ ဖြစ်ခဲ့ပြီး
သော အကြောင်း အရာတို့ကို မသိ သလော ဟု
၁၉ ပြောဆို၏။- ကိုယ်တော်ကလည်း၊ အဘယ် အ
ကြောင်း အရာနည်းဟု မေးတော်မူလျှင်၊ ထိုသူ
တို့က၊ နာဇရက်မြို့သား ယေရှု၏အကြောင်းအ
ရာပေတည်း။ ထိုသူသည်ဘုရားသခင်ရှေ့၊လူအ
ပေါင်းတို့ရှေ့မှာ၊ နှုတ်သတ္တိ၊ လက်သတ္တိနှင့်ပြည့်
၂၀ စုံသော ပရောဖက်ဖြစ်၏။- ထိုသူကို ယဇ်ပုရော
ဟိတ်အကြီးနှင့် ငါ တို့ မင်းများ သည်၊ အသေ
သတ်ခြင်းကိုခံစေခြင်းငှါအပ်နှံ၍လက်ဝါးကပ်
တိုင်မှာကွပ်မျက်ကြပြီ။-ထိုသူသည်ဣသရေလ
အမျိုးကို ရွေးနှုတ်မည့်သော သူဖြစ်သည်ဟု၊ ငါ

ထိုသည် အထက်ကမျှော်ထင့်ကြပြီ၊ ထိုမျှမက၊
၂၂ ဤအကြောင်းအရာဖြစ်၍ယနေ့သုံးရက်ရှိပြီ။-ငါ
ထို၏ပေါင်းဘော်မိန်းမအချို့တို့သည်လည်းမ
၂၃ နက်းမိုးလင်းခါမှာသချိုင်းသို့သွား၍၊ အလောင်း
တော်ကိုမတွေ့လျှင်၊ အသင်ယေရှုသည် အသက်
ရှင်တော်မူသည်ဟု ပြောသော ကောင်းကင် တ
မန်ထင်ရှားရာ ရူပါရုံကို မိမိတို့ မြင်ကြောင်းကို
ပြန်လာ၍ပြောဆိုသဖြင့်၊ ငါတို့သည် မိန်းမော
၂၄ တွေဝေခြင်းရှိကြ၏။- ထိုအခါ ငါတို့တွင်အချို့
သော သူတို့သည် သင်္ချိုင်းတော်သို့ သွား၍၊
မိန်းမတို့ ပြောဆိုသည် အတိုင်း တွေ့သော်လည်း၊
ကိုယ်တော်ကို မမြင်ရဟုပြောဆိုကြ၏။
၂၅ ကိုယ်တော်ကလည်း၊ ပရောဖက် ဟောပြော
သော စကားများကို ယုံ နိုင်အောင် ဉာဏ်မရှိ၊
၂၆ မိတ်မိုက်မသော သူတို့၊- ခရစ်တော်သည် ဤသို့
ဆင်းရဲခံ၍ မိမိဘုန်းစည်းစိမ်တော်ကိုဝင်စား
၂၇ ရမည်မဟုတ်သလော ဟု မိန့်တော်မူ၏။- ထိုအခါ
မောရှေ၏ကျမ်းစာမှစ၍ ပရောဖက်တို့၏ကျမ်းစာ
များ၌၊ ကိုယ်တော်ကိုရည်မှတ်၍ ရေးထားသမျှ
သော ကျမ်းစာချက် အနက်ကို ရှင်းလင်းစွာဟော်
၂၈ ပြတော်မူ၏။ ထိုတပည့်တော်တို့သည်သွားသော
ရွာအနီးသို့ရောက်သောအခါ၊ ကိုယ်တော်သည်
ထိုရွာကိုလွန်၍ သွားမည့်သော အခြင်းအရာကိုပြ
၂၉ တော်မူလျှင်၊-ထိုသူတို့က၊ အကျွန်ုပ်တို့နှင့်အတူ
ဝင်၍နေပါ။ ညဦးယံအချိန် ရှိပြီ။ မိုးသည်းလည်း
ချုပ် ပါသည် ဟူ၍၊ ကိုယ်တော် ကို ကြပ် ကြပ်
တွေးဆောင်ကြ၏။ ထိုကြောင့်၊ သူတို့ နှင့် အတူ
၃၀ နေခြင်းငှါဝင်တော်မူ၏။- စားပွဲ၌သူတို့နှင့်အတူ
လျောင်းတော်မူစဉ်၊ မုန့်ကိုယူ၍ကျေးဇူးတော်
ထိ ချီးမွမ်းပြီးမှ မုန့်ကိုဖဲ့၍သူတို့အားပေးတော်
၃၁ မူသည်တွင်၊-သူတို့သည် မျက်စိပွင့်လင်း၍ကိုယ်
တော်ဖြစ်သည်ကိုသိကြ၏။ ထိုအခါကိုယ်တော်
၃၂ သည် ကွယ် တော် မူ၏။- တပည့် တော် ထို့က
လည်း၊ ထမ်းခရီး၌ငါတို့နှင့်ဟောပြော၍ကျမ်း
စာအနက်ကိုဖွင့်ပြတော်မူသောအခါ၊ ငါတို့စိတ်
နှလုံးသည် ယိုမိတ် မတတ် ဖြစ်သည် မဟုတ်
သောလောဟုအချင်းချင်းပြောဆိုကြ၏။
၃၃ ထိုတပည့်တော်နှစ်ယောက်တို့သည်ချက်ချင်း
ထ၍ ယေရုရှလင်မြို့သို့ ပြန်ပြီးမှ၊ တကျိပ်တပါး
သောသူတို့သည် အပေါင်းအဖော်တို့နှင့်အတူစု
၃၄ ဝေးတွေ့ထဲရှိသည်ကိုတွေ့ကြ၏။-စုဝေးသောသူ
တို့ကလည်း၊ သခင်ဘုရားသည်အမှန်ထမြောက်

တော်မူပြီ။ ရှိမုန်အား ကိုယ်ကို ပြတော်မူပြီဟု
၃၅ ပြောဆိုလျှင်၊- ထိုတပည့်တော် နှစ်ယောက်တို့
သည်လမ်း၌ ဖြစ်သော အကြောင်းအရာကိုင်၎င်း၊
မုန့်ကိုဖဲ့စဉ်တွင်ထင်ရှားတော်မူကြောင်းကို၎င်း
ပြန်ကြားကြ၏။
၃၆ ထိုသို့ အချင်းချင်းပြောဆိုသောအခါ၊ ယေရှု
သည်သူတို့အလယ်၌ ရပ်တော်မူလျက်၊ သင်တို့
အားငြိမ်သက်ခြင်းဖြစ်စေသတည်းဟုမိန့်တော်
၃၇ မူ၏။- တပည့်တော်တို့သည်နာနှောကို မြင်သည်
ဟု စိတ်ထင်နှင့်၊ ထိတ်လန့်ကြောက်ရွံ့ခြင်းသို့
၃၈ ရောက်ကြ၏။- ကိုယ်တော် ကလည်း၊ အဘယ်
ကြောင့် တုန် လှုပ် ခြင်း ရှိကြသနည်း။ အဘယ်
ကြောင့် အထူးထူးအထွေထွေသောစိတ်ရှိကြသ
၃၉ နည်း။-ငါ၏လက်ကိုကြည့်ကြလော့။ ငါ့ခြေကိုလည်း
ကြည့်ကြလော့။ ငါကိုယ်ပင်ဖြစ်၏။ ငါ့ကိုကြည့်ရှု
စမ်းသပ်ကြလော့။ ငါသည်သင်တို့မြင်သည်အ
တိုင်းအရိုးအသားနှင့်ပြည့်စုံ၏။ နာနှောမည်သည်
ကား၊ ဤကဲ့သို့ မပြည့်စုံဟု မိန့်တော် မူလျက်၊-
၄၀ လက်တော်ခြေတော်တို့ကိုတပည့်တော်တို့အား
၄၁ ပြတော် မူ၏။- ထိုသူ တို့သည် ဝမ်းမြောက်၍ ဝမ်း
မြောက်သော အားဖြင့် မယုံနိုင်ဘဲ နေသေးသော
အခါ၊ သင်တို့၌ စားစရာ တစုံတခု ရှိသလောဟု
၄၂ မေးတော် မူလျှင်၊- ငါးကင် တမိုးနှင့် ပျားလ
၄၃ ပိုကိုကပ်ပေးကြ၏။- ကိုယ်တော်သည်ယူ၍ သူ
တို့ရှေ့မှာစားတော်မူ၏။
၄၄ တဖန်မိန့်တော်မူသည်ကား၊ မောရှေ၏ပညတ်
ကျမ်းစာ၌၎င်း၊ ပရောဖက် တို့၏ ကျမ်းစာ၌ ၎င်း၊
ဆာလံကျမ်းစာ၌၎င်း၊ ငါ့ကိုရည်မှတ်၍ရေးထား
သမျှသော အချက်တို့သည်ပြည့်စုံရမည်ဟု၊ ငါ
သည် သင်တို့နှင့်အတူ ရှိစဉ်အခါ သင်တို့အား
ဟောပြောသော အကြောင်းအရာတို့ကား ဤ
၄၅ အကြောင်းအရာပေတည်းဟုမိန့်တော်မူ၏။- ထို
အခါ ကျမ်းစာကို နားလည် စေခြင်းငှါ တပည့်
၄၆ တော်တို့၏ ဉာဏ်ကို ဖွင့် တော်မူလျှင်၊- ဤသို့
ကျမ်းစာလာ၏။ ဤသို့ခရစ်တော်သည် ဆင်းရဲခံ
၍၊ သုံးရက် မြောက် သော နေ့၌ သေခြင်းမှ ထ
၄၇ မြောက် ရမည်။- ခရစ်တော်၏ အခွင့်အားဖြင့်
နောင်တရခြင်းနှင့် အပြစ် လွှတ်ခြင်း တရားကို
ယေရုရှလင်မြို့မှ စသော လူမျိုး တကာ တို့ အား
၄၈ ဟောပြောရမည်။- သင်တို့သည်လည်း၊ ဤအ
၄၉ ကြောင်းအရာတို့၏သက်သေဖြစ်ကြ၏။-ငါ့အဖဦး
တော်၏ ဂတိရှိသည့် အတိုင်း သင်တို့၌ ငါ ပြုစု

မည်းသို့ဖြစ်၍၊သင်တို့သည်ကောင်းကင်ကတန်
ခိုးကို မခံမိတိုင်အောင်၊ ယေရုရှလင်မြို့၌ နေကြ
ဦးလော့ဟုမိန့်တော်မူ၏၊
၅၀ ထိုနောက်၊တပည့်တော်တို့ကို ယေရုရှလင်မြို့
မြင်၊ ဗေသနိရွာတိုင်အောင်ဆောင်သွားတော်မူ
ပြီးမှ၊ လက်တော်ကိုချီ၍ ကောင်းကြီးပေးတော်
၅၁ မူ၏၊- ထိုသို့ ကောင်းကြီး ပေးတော် မူစဉ်တွင်၊
တပည့်တော် တို့ နှင့် ကွာ၍ ကောင်း ကင် ဘုံ သို့
၅၂ ဆောင်ယူ ခြင်း ကို ခံ တော်မူ၏၊- တပည့်တော်
တို့သည် ကိုယ် တော်ကို ပြပ်ဝပ် ကိုး ကွယ် ပြီး
မှ အလွန် ဝမ်းမြောက် ဝမ်းသာ ခြင်း နှင့် ယေရု
၅၃ ရှလင်မြို့သို့ ပြန် သွား ကြ၏၊- ဘုရားသခင်ကို ထံ
ပြောမြှီးမွမ်း၊ လျှထ်၊ မိတ်မှန်တော်သို့ရောက်ပြီ
ရောက်ကြ၏၊

ရှင်လုကာခရစ်ဝင်ပြီး၏၊

---

# ရှင်ယောဟန်ခရစ်ဝင်၊

## JOHN

### ၁

၁ အစအဦး၌ နှုတ်ကပတ်တော်ရှိ၏၊ နှုတ်က
ပတ်တော်သည်ဘုရားသခင်နှင့်အတူရှိ၏၊ နှုတ်
ကပတ်တော်သည်လည်းဘုရားသခင်ဖြစ်တော်
၂ မူ၏၊- ထို နှုတ် ကပတ် တော် သည် အစအဦး၌
၃ ဘုရားသခင်နှင့်အတူရှိ၏၊-ထိုနှုတ်ကပတ်တော်
သည်ခပ်သိမ်းသောအရာတို့ကိုဖန်ဆင်းတော်မူ
၏၊ဖန်ဆင်းတော်မူခြင်းနှင့်ကင်းလွတ်လျက်ဖြစ်
၄ သောအရာတစုံတခုမျှမရှိ၊-ထိုနှုတ်ကပတ်တော်
၌ အသက်ရှိ၏၊ ထိုအသက်သည်လည်း၊ လူတို့၏
၅ အလင်းဖြစ်၏၊- ထိုအလင်းသည် မှောင်မိုက် ၌
ထွန်း၍မှောင်မိုက်သည်မခံမယူ၊
၆ ယောဟန် အမည် ရှိသော သူ တယောက် ကို
၇ ဘုရား သခင် စေလွှတ် တော် မူ ၏၊- ထိုသူကို လူ
အပေါင်း တို့သည် အမှီပြု၍၊ ယုံကြည် ခြင်းသို့
ရောက်မည်အကြောင်း၊ ထိုသူသည် သက်သေခံ
ဖြစ်၍၊ အလင်းတော်၏အကြောင်းကိုသက်သေ
၈ ခံခြင်းငှါ လာ၏၊- ထိုသူသည် အလင်း တော်မ
ဟုတ်၊ အလင်းတော်၏အကြောင်းကိုသက်သေ
၉ ခံခြင်း ငှါသာ လာ၏၊- ဟုတ်မှန်သော အလင်း
မူကား၊ ဤ လောကသို့ ကြွလာလျက်၊ ခပ်သိမ်း
သောလူအပေါင်း တို့အား အလင်းကို ပေးသော
သူဖြစ်သတည်း၊
၁၀ ထိုသူသည် ဤလောက၌ရှိတော်မူပြီ၊ ဤလော
ကကိုလည်း ဖန်ဆင်းတော်မူပြီ၊ သို့သော်လည်း၊
၁၁ ဤလောကသည် ထိုသူကို မသိ၊- သူသည်မိမိ
အရပ်သို့ ကြွလာသော်လည်း၊ မိမိ လူမျိုး တို့
၁၂ သည်သူကိုလက်မခံဘဲနေကြ၏၊- ထိုသူကိုလက်
ခံသမျှသော သူတည်း ဟူသော ကိုယ်တော်ကို
ယုံကြည်သောသူတို့အား၊ ဘုရားသခင်၏ သား
၁၃ ဖြစ်ရသောအခွင့်ကိုပေးတော်မူ၏၊- ထိုသားတို့
မူကား၊ လူမျိုးနှင့်စပ်ဆိုင်၍ ဖွားသော သားမ
ဟုတ်၊မေထုန်သံဝါသအားဖြင့်ဖွားသောသားမ
ဟုတ်၊ လူ အလို အလျောက် ဖွား သော သား မ
ဟုတ်၊ ဘုရားသခင် ဖွားတော်မူသော သားဖြစ်
သတည်း၊
၁၄ နှုတ်ကပတ် တော်သည် ထည်း၊ လူဇာတိ အ
ဖြစ်ကိုခံယူ၍၊ကျေးဇူးတော်နှင့်ငှင်၊သစ္စာတော်
နှင့်ငှင် ပြည့်စုံလျက်၊ ငါတို့တွင်တည်နေတော်မူ
သည်ဖြစ်၍၊ ခမည်းတော်၌ တပါးတည်းသော
သားတော်၏ဘုန်းကဲ့သို့၊ သူ၏ဘုန်းတော်ကိုငါ
၁၅ တို့သည်မြင်ရကြပြီ၊-ယောဟန်သည်ထိုသခင်
၏အကြောင်းကိုသက်သေခံ၍ကျူးကြော်သည်
ကား၊ နောက်ကြွလာသောသူသည် ငါမရှိမှီရှိ
နှင့်သည်ဖြစ်၍၊ ထောက်သာ၍ကြီးမြတ်သည်ဟု
ငါဆိုရာ၌၊ ထိုသူကို ဆိုလိုသည်ဟု သက်သေခံ
၁၆ လေ၏၊- ထိုသူ၏ပြည့်စုံခြင်းမှလည်း၊ ကျေးဇူး
တပါး၌ ထပ်ဆင့်၍၊ ကျေးဇူးအပါးကို ငါတို့ရှိ

၁၇ ထမျှသည်ခံရကြပြီ။-အကြောင်းမူကား၊ပညတ်
တရားတော်ကို မောရှေလက်တွင်ပေးတော်မူ၏၊
ကျေးဇူး၊တရား၊နှင့် သစ္စာတရား မူကား၊ ယေရှု
၁၈ ခရစ်အားဖြင့်ဖြစ်သတည်း။-ဘုရားသခင်ကိုအ
ဘယ်သူမျှမမြင်စဘူးသော်လည်း၊ ခမည်းတော်
၏ရင်ခွင်၌ရှိသောသားပါတည်းဟူသောသားတော်
သည်ဘုရားသခင်ကိုထင်ရှားစေတော်မူပြီ။
၁၉ ယုဒလူတို့က၊ သင်သည် အဘယ်သူနည်းဟု
ယောဟန်ကို မေးမြန်းစေခြင်း ငှါ၊ ယဇ်ပုရော
ဟိတ်နှင့်လေဝိလူတို့ကိုယေရုရှလင်မြို့မှစေလွှတ်
သော အခါ၊ ယောဟန် သည် သက်သေ ခံ လေ
၂၀ သည်မှာ- ငါသည် ခရစ်တော် မဟုတ်ဟု၊ ထိမ်
၂၁ ချန်ခြင်းမရှိ ဝန်ခံ၍ ပြောဆို၏။- ထို
သူတို့ကလည်း၊ သို့ဖြစ်လျှင်၊သင်သည်အဘယ်
သူနည်း။ ဧလိယ ဖြစ်သလော ဟု မေး မြန်၏။
ယောဟန်က၊ ငါသည် ဧလိယမဟုတ်ဟု ဆို၏။
ဤမည်သော ပရောဖက် ဖြစ်သလောဟု မေးမြန်
၂၂ လျှင်၊ မဟုတ်ဟု ဆိုပြန်၏။- ထိုသူတို့ကလည်း၊
သင်သည် အဘယ် သူနည်း။ ငါတို့ကို စေလွှတ်
သောသူတို့အား ပြန်လျှောက်စရာရှိစေခြင်းငှါ၊
သင်သည် ကိုယ်ကို အဘယ် သို့ ဆို သနည်းဟု
၂၃ မေးမြန်ကြ၏။- ယောဟန် က လည်း၊ ငါသည်
ပရောဖက်ဟေရှာယ ဟောပြောသည်နှင့်အညီ၊
ထာဝရ ဘုရား၏ လမ်းခရီးတော်ကို ဖြောင့်စေ
ကြလော့ဟု၊ တော၌ဟစ်ကြော်သောသူ၏အသံ
၂၄ ဖြစ်သည်ဟု ဆို၏။-အစေခံသောသူတို့ကား၊ဖာ
၂၅ ရိရှဲဖြစ်ကြသတည်း။- ထိုသူတို့ကလည်း၊ သင်
သည်ခရစ်တော်မဟုတ်၊ ဧလိယမဟုတ်၊ ဤမည်
သော ပရောဖက်မဟုတ်သည်မှန်လျှင်၊ အဘယ်
ကြောင့်နှစ်ခြင်းကိုပေးသနည်းဟုမေးမြန်ကြ၏။-
၂၆ ယောဟန်ကလည်း၊ ငါသည်ရေ၌ နှစ်ခြင်းကို
ပေး၏။သင်တို့အထဲ၌ သင်တို့မသိသောသူတ
၂၇ ယောက်ရှိ၏။-ထိုသူသည်နောက်ကြွလာသော်
လည်း၊ ငါ့ထက်သာ၍ ကြီးမြတ်၏။ ထိုသူ၏ ခြေ
နင်းတော်ကြိုးကိုမျှ ဖြည်ခြင်းငှါ ငါမထိုက်ဟု
၂၈ ပြန်ပြော၏။- ယောဟန်သည်နှစ်ခြင်းကိုပေးရာ
အရပ်၊ယော်ဒန်မြစ်တဘက်၊ဗေသနိရွာ၌ဤအမှု
အရာဖြစ်သတည်း။
၂၉ နက်ဖန်နေ့၌ ယေရှုကြွလာတော်မူသည်ကို
ယောဟန်သည်မြင်လျှင်၊ဤလောက၏အပြစ်ကို
ဆောင်သွားသော ဘုရားသခင်၏ သိုးသငယ်ကို
၃၀ ကြည့်လော့။-ငါမရှိမှီရှိနှင့်သည်ဖြစ်၍၊ငါ့ထက်
သာ၍ ကြီးမြတ်သောလူသည် နောက်ကြွလာ
၃၁ သည်ဟုငါဆိုရာ၌၊ထိုသူကိုဆို၏။-အစကထို
သူကိုငါမသိ။ သို့သော်လည်း၊ ထိုသူကို ဣသရေ
လ လူတို့အား ထင်ရှားစေခြင်းငှါ၊ ငါသည်ရေ၌
၃၂ နှစ်ခြင်းကိုပေးလျက်လာ၏။-ထိုမှတပါး၊ဝိညာဉ်
တော်သည် ကောင်းကင်မှ ငှက်ခိုကဲ့သို့ ဆင်း
သက်၍၊ထိုသူ၏အပေါ်၌နားတော်မူသည်ကိုငါ
၃၃ မြင်ရပြီ။- အစကထိုသူကိုငါမသိ။ ရေ၌နှစ်ခြင်း
ကို ပေးစေခြင်းငှါ ငါ့ကိုစေလွှတ်တော်မူသော သူ
က၊ အကြင်သူ၏ အပေါ်၌ ဝိညာဉ်တော် ဆင်း
သက်၍နားတော်မူသည်ကိုသင်သည်မြင်လျှင်၊
ထိုသူကား၊ သန့်ရှင်းသော ဝိညာဉ် တော်၌ နှစ်
ခြင်းကို ပေးသော သူ ပေတည်း။ ဟု မိန့် တော်မူ
၃၄ သည်နှင့်အညီ၊-ငါသည်မြင်၍၊ဤသူသည်ဘုရား
သခင်၏သားတော်ဖြစ်တော်မူကြောင်းကိုသက်
သေခံသည်ဟု၊ယောဟန်ဆိုလေ၏။
၃၅ တဖန် ယောဟန်သည် နက်ဖန်နေ့၌ တပည့်
၃၆ နှစ်ယောက်တို့ နှင့် အတူ ရပ် နေ၍- ယေရှုကြွ
တော်မူသည်ကို မြင်လျှင်၊ ဘုရားသခင်၏ သိုး
၃၇ သငယ်ကို ကြည့် လော့ ဟု ဆို ၏။- တပည့် နှစ်
ယောက်တို့သည်ထိုစကားကိုကြားလျှင်၊ ယေရှု
၃၈ နောက်တော်သို့လိုက်ကြ၏။- ယေရှုသည်လှည့်
၍ထိုသူတို့လိုက်ကြသည်ကိုမြင်တော်မူလျှင်၊အ
ဘယ်အလိုရှိသနည်းဟုမေးတော်မူ၏။ ထိုသူတို့
က၊ရဗ္ဗိ၊ကိုယ်တော်သည် အဘယ်မှာနေတော်မူ
သနည်းဟုမေးလျှောက်ကြ၏။ ရဗ္ဗိအနက်ကား
၃၉ အရှင်ဘုရားဟု ဆိုလိုသတည်း။- ယေရှုက
လည်း၊ လာ၍ကြည့်ကြလော့ဟု မိန့်တော်မူ၏။
ထိုသူတို့သည် သွား၍ နေတော်မူရာ အရပ် ကို
ကြည့်ကြ၏။ ထိုအချိန်သည် ဆယ်နာရီ အချိန်
ဖြစ်၍၊ မိုဃ်းချုပ်သည်တိုင်အောင်အထံတော်၌
၄၀ နေကြ၏။-ယောဟန်၏စကားကိုကြား၍နောက်
တော်သို့ လိုက်သော သူနှစ်ယောက် တို့တွင် တ
ယောက်ကား၊ရှိမုန်ပေတရု၏ညီ၊အန္ဒြေလတည်း။-
၄၁ ထိုသူသည် မိမိအစ်ကို ရှိမုန်ကို ရှေဦးစွာ တွေ့
လျှင်၊ ငါတို့သည်မေရှိကို တွေ့ကြပြီဟု ပြောဆို
၄၂ လျက်၊- သူကိုယေရှုထံသို့ဆောင်သွား၏။ မေရှိ
အနက်ကား၊ ခရစ်တော်ဟုဆိုလိုသတည်း။ ယေ
ရှုသည်ထိုသူကိုကြည့်ရှု၍၊ သင်သည်ယောနာ၏
သား၊ရှိမုန်ဖြစ်၏။ကေဖအမည်အခံကိုရလတံ့ဟု
မိန့်တော်မူ၏။ ကေဖအနက်ကား၊ ပေတရုဟုဆို
လိုသတည်း။

၄၃ နက်ဖန်နေ့၌ဂါလိလဲပြည်သို့ကြွခြင်းငှါအလို
တော်ရှိလျှင် ဖိလိပ္ပုကိုတွေ့၍၊ငါ့နောက်သို့လိုက်
၄၄ လော့ဟုမိန့်တော်မူ၏။ ဖိလိပ္ပုကား၊ အန္ဒြေနှင့်
ပေတရုနေရာဗက်ဇဲဒမြို့မှ လာသောသူဖြစ်
၄၅ သတည်း။ ဖိလိပ္ပုသည် နာသနေလ ကို တွေ့
လျှင်၊ မောရှေ သည် ပညတ္တိ ကျမ်း၌၎င် ပရော
ဖက်တို့သည် သူတို့ကျမ်း၌၎င်၊ အကြောင်းဖွင့်၍
ရေးထားသောသူ၊ နာဇရက်မြို့သား ဖြစ်သော
ယောသပ်၏သားယေရှုကိုငါတို့သည်တွေ့ကြပြီ
၄၆ ဟုဆို၏။ နာသနေလကလည်း၊ နာဇရက်မြို့ထဲ
က ကောင်းသော အရာ တစုံတခုမျှ ထွက်နိုင်သ
လောဟုမေးလျှင်၊ ဖိလိပ္ပုက၊ လာ၍ကြည့်ပါဟု
၄၇ ဆို၏။ နာသနေလလာသည်ကိုယေရှုသည်မြင်
တော်မူလျှင်၊ ဟုတ်မှန်စွာဣသရေလအမျိုးဖြစ်၍ ကင်းလွတ်
သောဣသရေလလူ စစ်ကိုကြည့်လော့ဟု၊ ထိုသူ
၄၈ ကို အမှတ်ပြု၍ မိန့် တော်မူ၏။ နာသနေလက
လည်း၊ ကိုယ်တော်သည် အဘယ်သို့သောအား
ဖြင့် အကျွန်ုပ်ကို သိ တော် မူ သ နည်း ဟု မေး
လျှောက်သော်၊ ယေရှုက၊ ဖိလိပ္ပုသည် သင့်ကို
မခေါ်မှီ၊ သင်သည်သင်္ဘောသဖန်းပင်အောက်၌
ရှိသည်ကို ငါမြင်သည်ဟု ပြန်၍ မိန့် တော်မူ
၄၉ လျှင်၊- အရှင်ဘုရား၊ ကိုယ်တော်သည် ဘုရား
သခင်၏သားတော်ဖြစ်တော်မူ၏။ ဣသရေလလူ
တို့၏ရှင်ဘုရင် လည်း ဖြစ်တော်မူ၏ဟု၊ နာသနေ
၅၀ လလျှောက်လေ၏။- တဖန် ယေရှုက၊ သင်္ဘော
သဖန်းပင်အောက်၌ သင့်ကိုငါမြင်သည်ဟု ဆို
သောကြောင့်ယုံသလော၊ ထိုမျှမက၊ သင်သည်
သာ၍ ကြီး စွာ သော အကြောင်း အရာကို မြင်
၅၁ လတံ့။- သင်တို့အား ငါအမှန်အကန် ဆိုသည်
ကား၊ နောင်ကာလ၌ ကောင်းကင်ဖွင့်လှစ်သည်
ကို၎င်၊ ဘုရားသခင်၏ကောင်းကင်တမန်တို့သည်
လူသား၏ အပေါ်၌ ဆင်းလျက်၊ တက်လျက်ရှိ
နေသည်ကို၎င်၊ သင်တို့သည် မြင်ရကြလတံ့ဟု
မိန့်တော်မူ၏။

## ၂

၁ သုံးရက်မြောက်သောနေ့၌ ဂါလိလဲပြည် ကာန
မြို့တွင် မင်္ဂလာဆောင် ပွဲကို ခံကြ စည်၊ ထိုပွဲ၌
၂ ယေရှု၏မယ်တော်ရှိ၏။ ယေရှုနှင့်တပည့်တော်
၃ တို့ကိုလည်း ထိုပွဲသို့ ခေါ်ပင့်ကြ၏။- စပျစ်ရည်
ကုန် သော အခါ၊ ယေရှု၏ မယ်တော်က၊ စပျစ်
၄ ရည်မရှိဟုကြားပြော၏။- ယေရှုကလည်း၊ အ
ချင်းမိန်းမ၊ သင်သည်ငါနှင့်အဘယ်သို့ဆိုင်သနည်း။
၅ ငါအချိန် မရောက်သေးဟု မိန့်တော်မူ၏။- မယ်
တော်ကလည်း၊ သူစေခိုင်းသမျှတို့ကိုပြုကြလော့
၆ ဟု၊ အစေခံတို့အား ဆိုလေ၏။- ယုဒလူတို့သာသနာအ
လျောက် စင်ကြယ်ခြင်းအမှုအလို့ငှါ၊ ကျောက်ရေအိုး
၌ နှစ်တင်း သုံးတင်း ခန့် ဝင်သော ကျောက်အိုး
၇ ခြောက်လုံး ထားလျက်ရှိ၏။- ယေရှုက
လည်း၊ ထိုရေအိုးတို့ကိုရေဖြည့်ကြဟု၊အစေခံတို့
အားမိန့်တော်မူလျှင်၊ ထိုသူတို့သည်လျှံမတတ်
၈ ဖြည့်ကြ၏။- ယခုခပ်၍ ပွဲအုပ်ထံသို့ သွင်းကြ
လော့ဟု မိန့်တော်မူသည်အတိုင်း သွင်းကြ၏။-
၉ ပွဲအုပ်သည် စပျစ်ရည်ဖြစ်စေသောရေကိုမြည်း
စမ်း၍၊ ထိုရေကိုခပ်သောအစေခံတို့သည် စပျစ်
ရည်ကို အဘယ်မှာရသည်ကို သိသော်လည်း၊
ပွဲအုပ်သည် မသိသောကြောင့်၊ မင်္ဂလာဆောင်
၁၀ သူကိုခေါ်၍ အသံကို လွှင့်၍၊- အခြားသောသူ
မည်သည်ကား၊ ရှေးဦးစွာ ကောင်း သော စပျစ်
ရည်ကိုထည့်၍၊ ဝစွာသောက်ကြပြီးမှ ညံ့သော
စပျစ်ရည်ကိုထည့်လေ့ရှိ၏။ သင်မူကား၊ ကောင်း
သောစပျစ်ရည်ကိုယခုတိုင်အောင်သိုထားပြီဟု
၁၁ ဆို၏။- ထိုသို့ယေရှုသည် ရှေးဦးစွာ သော ဤနိ
မိတ် လက္ခဏာကို၊ ဂါလိလဲပြည် ကာနမြို့၌ ပြ၍
မိမိဘုန်းတော်ကိုထင်ရှားစေတော်မူ၏။ တပည့်
တော်တို့သည်လည်းယုံကြည်ကြ၏။
၁၂ ထိုနောက်၊ မယ်တော်မှစ၍ညီတော်၊ တပည့်
တော်တို့နှင့်တကွ၊ ကပေရနောင်မြို့သို့ကြွတော်မူ
၁၃ ၏။ ထိုမြို့မှာကြာမြင့်စွာမနေဘဲ၊- ယုဒပသခါပွဲ
ခံချိန်နီးသည်ရှိသော်၊ ယေရုရှလင်မြို့သို့ကြွတော်
၁၄ မူ၏။- ဗိမာန်တော်၌သိုး၊ နွား၊ ခိုးငှက်ရောင်း
သောသူတို့ကို၎င်၊ ပွဲစားများထိုင်လျက် ရှိသည်
၁၅ ကို၎င်တွေ့တော်မူလျှင်၊- ကြိုးစရာအိုကြိုးသော
များကို ပြုပြင် ပြီးမှ၊ ထိုသူ အပေါင်း တို့ကို၎င်၊
သိုး၊ နွားများကို၎င်၊ ဗိမာန်တော်မှ နှင်ထုတ်
တော်မူ၍၊ ပွဲစားတို့၏ငွေတင်ခုံများကိုလှန်ပြစ်
၁၆ မှောက်ထားတော်မူ၏။- ခိုးငှက်ရောင်းသောသူ
တို့အားလည်း၊ ဤဥစ္စာကိုယူသွားကြ။ ငါ့အဘ၏
အိမ်တော်ကို ပွဲထဲ မလုပ်ကြနှင့်ဟု မိန့် တော်မူ
၁၇ ၏။- ကိုယ်တော်၏အိမ်တော်၌စွဲလမ်းပူပန်ခြင်း
စိတ်သည် အကျွန်ုပ်ကို စားပါ၏ဟု၍ ကျမ်းစာ
လာသည်ကို၊ ထိုအခါတပည့်တော်တို့သည်မှတ်
မိကြ၏။
၁၈ ယုဒလူတို့ကလည်း၊ သင်သည်ဤသို့ပြုလျှင်အ
ဘယ်နိမိတ်လက္ခဏာကိုငါတို့အားပြမည်နည်း၊

၁၉ ထုဆိုကြ၏- ယေရှုကလည်း၊ ဤဗိမာန်တော်
ကို ဖြိုဖျက်ကြလော့၊ သုံးရက် အတွင်း၌ ငါ
၂၀ တည်ဆောက်မည်ဟုမိန့်တော်မူ၏။- ထိုဒလုတို့
က၊ အနှစ်လေးဆယ်ခြောက်နှစ်ပတ်လုံး၊ ဤဗိမာန်
တော်ကို တည်ဆောက်ရကြ၏၊ သင်မူကား
သုံးရက်တည်းနှင့် တည် ဆောက် မည်လော ဟု
၂၁ ဆိုကြ၏- ထိုသို့မိန့်တော်မူရာ၌ဗိမာန်ကိုယ်တည်း
ဟူသောဗိမာန်ကို အမှတ်ပြု၍ မိန့်တော်မူ၏။-
၂၂ ထိုကြောင့်၊ သေခြင်း၌ ထမြောက်တော်မူသည်
နောက်၊ ထိုစကားတော်ကိုတပည့်တော်တို့သည်
မှတ်မိကြသဖြင့်၊ ကျမ်းစာကိုယုံ၍၊ ယေရှု၏ နှုတ်
ကပတ်တော်ကိုယုံကြ၏။
၂၃ ထိုအခါ ပွဲအတွင်းတွင် ယေရှုသည် ယေရုရှ
လင်မြို့၌ရှိ၍၊ပြုတော်မူသောနိမိတ်လက္ခဏာတို့
ကို မြင်သောသူတို့သည်မြင်ရသဖြင့်၊ ကိုယ်
၂၄ တော်ကို ယုံ ကြည် ခြင်း သို့ ရောက်ကြ၏။- သို့
သော်လည်း၊ ယေရှုသည် ထိုသူတို့၌ ကိုယ် ကို
အပ် တော် မမူ၊ အ ကြောင်း မူကား၊ ခပ် သိမ်း
၂၅ သောသူတို့ကိုသိတော်မူ၏။-လူ၏အထဲ၌ရှိသမျှ
ကို သိတော်မူသောကြောင့်၊ လူ၏အကြောင်းကို
သက်သေ ခံ စေခြင်းငှါ အဘယ် သူကို မျှ အလို
တော်မရှိ။

၃

၁ ဖာရိရှဲတို့တွင်အရာရှိဖြစ်သော၊နိကောဒင်အ
၂ မည်ရှိသောဖာရိရှဲတယောက်သည်၊- ညည့်အ
ခါယေရှုထံတော်သို့လာ၍၊အရှင်ဘုရား၊ကိုယ်
တော်သည် ပြုတော်မူသော ဤနိမိတ် လက္ခဏာ
တို့ကို၊ဘုရားသခင်၏အခွင့်မရှိလျှင်၊အဘယ်သူ
မျှမပြုနိုင်သည်ကိုအကျွန်ုပ်တို့သည်ထောက်၍၊
ကိုယ်တော်သည် ဘုရားသခင် အထံတော်မှ ကြွ
လာတော်မူသောဆရာဖြစ်ကြောင်းကို သိကြပါ
၃ ၏ဟုလျှောက်သော်၊-ယေရှုက၊ဒုတိယမွေးခြင်း
ကို မခံသော သူမည်သည်ကား၊ ဘုရားသခင်၏
နိုင်ငံတော်ကိုမမြင်ရဟု၊ငါအမှန်အကန်ဆိုသည်
၄ ဟုပြန်၍မိန့်တော်မူ၏။-နိကောဒင်ကလည်း၊ အ
သက်ကြီးသောသူသည် မွေးခြင်းကိုအဘယ်သို့
ခံနိုင်ပါမည်နည်း၊ အမိဝမ်းထဲသို့ တဖန် ဝင်၍
မွေးခြင်းကို ခံ နိုင်ပါမည်လောဟု လျှောက်၏။-
၅ ယေရှုကလည်း၊ရေနှင့်ဝိညာဉ်တော်မမွေးသော
သူမည်သည်ကား၊ ဘုရားသခင်၏ နိုင်ငံတော်သို့
၆ မဝင်ရဟု၊ငါအမှန်အကန်ဆို၏။-ဇာတိပကတိ
မွေးသောအရာသည်ဇာတိပကတိဖြစ်၏။ဝိညာဉ်
၇ တော်မွေးသောအရာသည်ဝိညာဉ်ဖြစ်၏။-ဒုတိ
ယမွေးခြင်းကိုခံရမည်ဟုငါဆိုသောစကားကို
၈ အံ့ဩခြင်းမရှိနှင့်။- လေသည် အလိုရှိတိုင်း
သွားလာ၏၊ လေ၏အသံကို သင်သည် ကြားရ
သော်လည်း၊ အ ဘယ်အရပ်က ဖြစ်သည်၊ အ
ဘယ်အရပ်သို့ သွားသည်ကိုမသိနိုင်၊ ထိုနည်း
တူ၊ ဝိညာဉ်တော်မွေးသော သူဖြစ်သည်ဟု မိန့်
တော်မူ၏။
၉ နိကောဒင် ကလည်း၊ ဤအမှု အရာ သည် အ
ဘယ်သို့ ဖြစ်နိုင်ပါမည်နည်း၊ ဟု လျှောက် ဖြန်
၁၀ လျှင်၊- တဖန်ယေရှုက၊သင်သည်ဣသရေလလူ
တို့တွင်ဆရာဖြစ်လျက်ပင် ဤအမှုအရာကိုမ
၁၁ သိသလော၊- ငါအမှန်အကန်ဆိုသည်ကား၊ ငါ
တို့သည် ကိုယ်သိသောအရာကိုပြော၏၊ ကိုယ်
မြင်သောအရာကိုသက်သေခံ၏၊သို့သော်လည်း၊
ငါတို့၏သက်သေခံချက်ကိုသင်တို့သည် မခံမယူ
၁၂ ကြ။- မြေကြီးအရာကိုငါပြော၍ သင်တို့သည်မ
ယုံလျှင်၊ကောင်းကင်အရာကိုငါပြောသောအခါ
၁၃ အဘယ်သို့ယုံကြလိမ့်မည်နည်း။-ကောင်းကင်
ဘုံကဆင်းသက်၍၊ ကောင်းကင်ဘုံ၌ရှိနေသော
လူသားမှတပါး၊ အဘယ်သူမျှ ကောင်းကင် ဘုံ
၁၄ သို့ မတက် ပြီ။- မောရှေသည် တော၌ မြွေ ကို
မြှောက်ထားသကဲ့သို့၊လူသားသည်မြှောက်ထား
၁၅ ခြင်းကို ခံရမည်၊- အကြောင်းမူကား၊ ထိုသား
တော်ကို ယုံ ကြည်သော သူ အပေါင်း တို့သည်
ပျက်စီးခြင်းသို့မရောက်၊ ထာဝရအသက်ကို ရ
၁၆ မည် အကြောင်း တည်း။- ဘုရားသခင်၏သား
တော်ကို ယုံကြည် သော သူ အပေါင်း တို့သည်
ပျက်စီးခြင်းသို့ မရောက်၊ ထာဝရအသက်ကိုရ
စေခြင်းငှါ၊ဘုရားသခင်သည်မိမိ၌တပါးတည်း
သောသားတော်ကိုစွန့်တော်မူသည်တိုင်အောင်
၁၇ လောကီသားတို့ကိုချစ်တော်မူ၏။- လောကီသား
တို့အား အပြစ်စီရင်ခြင်းငှါ၊ ဘုရားသခင်သည်
သားတော်ကိုဤလောကသို့စေလွှတ်တော်မူသည်
မဟုတ်၊ လောကီသားတို့သည်ကိုယ်တော်အား
ဖြင့်ကယ်တင်ခြင်းသို့ရောက်မည်အကြောင်းစေ
၁၈ လွှတ်တော်မူ၏။- သားတော်ကို ယုံကြည်သော
သူသည် အပြစ် စီရင်ခြင်းကို မခံရ၊ မယုံကြည်
သော သူမူကား၊ ဘုရားသခင်၌ တပါးတည်း
သော သား တော်ကို မယုံကြည်သောကြောင့်၊
ထိုနည်းပင်အပြစ်စီရင်ခြင်းကိုခံရ၏။- အပြစ်စီရင်
ခြင်းကိုခံရကြောင်းကား၊အလင်းသည်ဤလော

ကသို့ဝင်၍၊ လုတို့သည်မကောင်းသောအကျင့်
ကိုကျင့်သောကြောင့်၊ အလင်းထက်မှောင်မိုက်
၂၀ ကိုသာ၍ နှစ်သက် ကြ၏။- ဆိုးယုတ်သော အ
ကျင့်ကိုကျင့်သောသူအပေါင်းတို့သည် အလင်း
ကိုမြင်မုန်း၍၊ မိမိတို့အကျင့်၌အပြစ်ပါသည်ကို
မထင်ရှား စေခြင်းငှါ၊ အလင်းသို့ မချည်းကပ်
၂၁ ကြ။- သစ္စာတရားကိုကျင့်သောသူမူကား၊ မိမိအ
ကျင့်တို့သည် ဘုရားသခင်၏ အလိုတော်နှင့် ညီ
သည်ကို ထင်ရှား စေခြင်းငှါ၊ အလင်းသို့ ချည်း
ကပ်သည်ဟုဟောတော်မူ၏။
၂၂ ထိုနောက်မှ ယေရှုသည် တပည့်တော်တို့ နှင့်
အတူယုဒပြည်၏ကျေးလက်သို့ကြွတော်မူလျှင်၊
ထိုအရပ်၌ တပည့်တော်တို့နှင့်တကွ နေတော်မူ
၂၃ ၍ နှစ်ခြင်းကိုပေးလေ၏။-ယောဟန်သည်လည်း
ရှာလိမ်မြို့နှင့်အနီး၊ အဲနုန်အရပ်၌ရေများသော
ကြောင့် နှစ်ခြင်းကိုပေး၍ နေသဖြင့်၊ လူများတို့
၂၄ သည်လာ၍နှစ်ခြင်းကိုခံကြ၏။-ယောဟန်သည်
ထောင်ထဲသို့မရောက်သေး။
၂၅ ထိုအခါ ယောဟန်၏တပည့်တို့သည်စင်ကြယ်
ခြင်းကို အကြောင်းပြု၍၊ ယုဒလူနှင့် ဆွေးနွေး
၂၆ ငြင်းခုံခြင်းရှိကြသဖြင့်၊-ယောဟန်ထံသို့လာ၍၊
အရှင်ဘုရား၊ ယော်ဒန်မြစ်တဖက်၌ကိုယ်တော်
နှင့်တကွရှိ၍၊ကိုယ်တော်သက်သေပေးသောသူ
သည် နှစ်ခြင်းကိုပေးလျက်နေ၏။ ထိုသူထံသို့လူ
အပေါင်း တို့ သည် ရောက်ကြပါ၏ ဟု လျှောက်
၂၇ လျှင်၊- ယောဟန်က၊ကောင်းကင်ဘုံမှပေး တော်
မမူလျှင်၊လူသည်အဘယ်အရာကိုမျှမခံနိုင်ရာ။
၂၈ ငါသည်ခရစ်တော်မဟုတ်၊- ခရစ်တော်ရှေ့၌စေ
လွှတ်သော သူဖြစ်သည်ဟု ငါဆိုသည်ကို၊ သင်
၂၉ တို့သည်ငါ၏သက်သေဖြစ်ကြ၏။-မင်္ဂလာဆောင်
သတို့ သမီးကို ရသောသူသည် မင်္ဂလာ ဆောင် လု
လင်ဖြစ်၏။ မင်္ဂလာဆောင်လုလင်၏အနားမှာနေ
၍၊ သူ၏ စကားကို ကြားရသော အဆွေခင်ပွန်း
သည် ထိုစကားသံကိုကြားသော အားဖြင့် ဝမ်း
မြောက်ခြင်းရှိ၏၊ ထိုနည်းတူ၊ ငါ၏ဝမ်းမြောက်
၃၀ ခြင်းပြည့်စုံ၏။- ထိုသခင်သည် တိုးပွား ခြင်းရှိ
၃၁ ရမည်၊ ငါမူကား၊ဆုတ်ယုတ်ခြင်းရှိရမည်။- အ
ထက်မှလာသောသူသည် အလုံးစုံတို့၏ အထွတ်
ဖြစ်၏။ မြေကြီးမှဖြစ်သော သူသည် မြေကြီးနှင့်
စပ်ဆိုင်၍မြေကြီးအရာကိုပြောတတ်၏။ကောင်း
ကင်ဘုံမှ ကြွလာသောသူသည် အလုံးစုံတို့၏ အ
၃၂ ထွဋ်ဖြစ်တော်မူ၏။- မြင်သမျှ၊ကြားသမျှတို့ကို
လည်းသက်သေခံတော်မူ၏၊ ထိုသက်သေခံချက်
၃၃ ကို အဘယ်သူမျှမခံမယူ။- သက်သေ ခံတော်မူ
ချက်ကို ခံယူ သော သူသည်ကား၊ ဘုရားသခင်
သည် သစ္စာစောင့်တော်မူသည်ဟု တံဆိပ်ခတ်
၃၄ ၏။- ဘုရားသခင်စေလွှတ်တော်မူသောသူသည်
ဘုရားသခင် ၏ စကား တော်ကို ပြောဆိုတတ်၏။
ထိုသူအား ဘုရားသခင်သည် ဝိညာဉ်တော်ကိုအ
၃၅ တိုင်းအရှည်မရှိဘဲပေးတော်မူ၏၊-ခမည်းတော်
သည် သားတော်ကိုချစ်တော်မူ၍၊ ခပ်သိမ်းသော
အရာတို့ကို သားတော်လက်သို့အပ်ပေးတော်မူ
၃၆ ပြီ။- သားတော်ကို ယုံကြည်သောသူသည် ထာ
ဝရအသက်ကိုရ၏။ သားတော်ကို ပယ်သောသူ
မူကား၊ အသက်ကို မတွေ့ရ၊ ထိုသူ၏ အပေါ်၌
ဘုရားသခင်၏ အမျက် တော် တည်နေသည်ဟု၊
ယောဟန်ဟောလေ၏။

၄

၁ ယေရှုသည်ကိုယ်တိုင်နှစ်ခြင်းကိုပေးတော်မ
၂ မူ၊-တပည့်တော်တို့သာလျှင်ပေးကြသော်လည်း၊
ယေရှုသည်ယောဟန်ထက်သာ၍များသောသူ
တို့ကို တပည့်တော် ဖြစ်စေ၍ နှစ်ခြင်းကို ပေး
ကြောင်းကို ဖာရိရှဲ တို့သည် ကြားပြီဟု၊ သခင်
၃ ဘုရား သိတော်မူသောအခါ၊- ယုဒပြည်မှထွက်
သွား၍ ဂါလိလဲ ပြည်သို့ တဖန် ကြွတော်မူစဉ်
၄ တွင်၊-ရှမာရိပြည်အလယ်၌ရှောက်သွားရ၏။-
၅ ယာကုပ်သည်မိမိသားယောသပ်အားပေးသော
မြေအကွက်နှင့်အနီး၊ ရှမာရိနယ်၊ ရှခါအမည်ရှိ
၆ သောမြို့သို့ ရောက်တော်မူ၏။- ထိုအရပ်၌ ယာ
ကုပ်၏ရေတွင်းရှိ၏။ယေရှုသည် ခရီးသွား၍ပင်
ပန်းသော ကြောင့် ရေတွင်းနားမှာ ထိုင်တော်မူ
၏၊ထိုအချိန်သည်ခြောက်နာရီအချိန်ဖြစ်၏။
၇ ရှမာရိမိန်းမတယောက်သည်ရေခပ်ခြင်းငှါ လာ
၍၊ ယေရှုက၊ ငါသောက်ဘို့ရေပေးပါဟု၊ ထိုမိန်း
၈ မအားမိန့်တော်မူ၏။-အကြောင်းမူကား၊ တပည့်
တော်တို့သည် စားစရာကို ဝယ်ခြင်းငှါ မြို့ထဲသို့
၉ သွားကြသည်အမိုက်ဖြစ်သတည်း။- ထိုမိန်းမက
လည်း၊သင်သည်ယုဒလူဖြစ်လျက်ပင်၊ရှမာရိမိန်း
မဖြစ်သောအကျွန်ုပ်ကို အဘယ်ကြောင့်သောက်
ဘို့တောင်းသနည်းဟု ဆို၏၊ ဆိုသည့်အကြောင်း
ကား၊ယုဒလူတို့သည်ရှမာရိလူတို့နှင့်ပေါင်းဖော်
၁၀ ခြင်းမရှိ။-ယေရှုကလည်း၊ဘုရားသခင်ကျေးဇူး
တော်ကိုငှင်၊ ငါသောက်ဘို့ရေပေးပါဟု ဆိုသော
သူကား အဘယ်သူဖြစ်သည်ကိုငှင်၊ သင်သည်

ထိုလျှင် ထိုသူကိုတောင်းလိမ့်မည်၊ ထိုသူသည်
လည်း အသက်ရေကိုပေးလိမ့်မည်ဟုပြန်၍မိန့်
၁၀ တော်မူသော်၊- မိန်းမက၊ သခင်၌ရေခပ်စရာမရှိ၊
ရေတွင်းလည်း နက်သည်ဖြစ်၍၊ အသက်ရေကို
၁၁ အဘယ်သို့ရပါမည်နည်း။- ဤရေတွင်းကိုငါတို့
အဘ ယာကုပ်သည် ငါတို့အားပေး၏၊ သူကိုယ်
တိုင်မှစ၍ သားသမီး၊ တိရစ္ဆာန်များတို့သည် ဤ
တွင်းရေကို သောက်ကြပြီ၊ သခင်သည် ထိုသူ
၁၂ ထက် ကြီးမြတ်သလောဟု ဆို၏။- ယေရှုက
လည်း၊ ဤရေကိုသောက်သောသူသည်နောက်တ
၁၃ ဖန်ရေငတ်ဦးမည်။- ငါပေးသောရေကိုသောက်
သော သူမူကား၊ ရေငတ်ခြင်းနှင့် အစဉ်မပြတ်
ကင်းလွတ်လိမ့်မည်၊ ငါပေးသော ရေသည် ထို
သူ၌ ထာဝရ အသက် ရှင် ခြင်း အလို့ငှါ ထွက်
၁၄ သောစမ်းရေဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။- မိန်း
မကလည်း၊ သခင်၊ အကျွန်ုပ် သည် ရေငတ်ခြင်း
နှင့်ငင်၊ သည်ကိုလာ၍ရေခပ်ခြင်းနှင့်ငင်ကင်း
လွတ်မည်အကြောင်း၊ ထိုရေကိုပေးပါဟုတောင်း
၁၅ လျှင်၊- ယေရှုက၊ သွားလော့၊ သင်၏လင်ကိုခေါ်
၁၆ ၍သည်ကိုလာဦးလော့ဟုမိန့်တော်မူ၏။- မိန်းမက
လည်း၊ အကျွန်ုပ်၌လင်မရှိဟုဆိုလျှင်၊ ယေရှုက၊
၁၇ လင်မရှိဟူသောစကားသည်မှန်၏၊ အကြောင်း
မူကား၊ သင်၌လင်ငါးယောက်ရှိဘူးပြီ၊ ယခုသင်
နှင့်နေသောသူသည်သင်၏လင်မဟုတ်၊ ဤအရာ
၌ သင်သည် မှန်သောစကားကို ပြောပြီဟု မိန့်
တော်မူ၏။
၁၈ ထိုမိန်းမကလည်း၊ သခင်၊ ကိုယ်တော်သည်ပရော
၁၉ ဖက်ဖြစ်သည်ကိုအကျွန်ုပ်ရိပ်မိပါ၏။- အကျွန်ုပ်
တို့ဘိုးဘေးများသည်ဤတောင်ပေါ်၌ကိုးကွယ်
လေ့ရှိကြ၏၊ ယေရုရှလင်မြို့၌သာ ကိုးကွယ် ရ
မည်ဟု၊ သင်တို့သည် ဆိုတတ်ကြ၏ဟုလျှောက်
၂၀ လျှင်၊-ယေရှုက၊ အချင်းမိန်းမ၊ ငါ့စကားကိုယုံလော့၊
ဤတောင်သို့မလာ၊ ယေရုရှလင်မြို့သို့မသွားဘဲ၊
ခမည်းတော်ကို ကိုးကွယ် ရမည် အချိန်ကာလ
၂၁ ရောက်ဆဲရှိ၏။-သင်တို့သည်ကိုယ်မသိသောအ
ရာကိုကိုးကွယ်ကြ၏၊ ငါတို့သည်ကိုယ်သိသော
အရာကိုကိုးကွယ်ကြ၏၊ အကြောင်းမူကား၊ ယုဒ
၂၂ လူတို့၌ ကယ်တင်ခြင်း အကြောင်းရှိ၏။- ကိုး
ကွယ်သောသူမှန်သမျှတို့သည် ခမည်းတော်ကို
နိဗ္ဗာန်ညည်နှင့်ငင်၊ သစ္စာတရားနှင့်ငင် ကိုးကွယ်ရ
မည် အချိန်ကာလသည်လာ၍ ယခုပင် ရောက်
လျက်ရှိ၏၊ အကြောင်းမူကား၊ ထိုသို့ကိုးကွယ်
သောသူတို့ကို ခမည်းတော်သည် အလိုရှိတော်
၂၃ မူ၏။-ဘုရားသခင်သည်နိဗ္ဗာန်ညည်ဖြစ်တော်မူ၏၊
ဘုရားသခင်ကို ကိုးကွယ်သော သူတို့သည်
နိဗ္ဗာန်ညည်နှင့်ငင်၊ သစ္စာနှင့်ငင် ကိုးကွယ်ရမည်ဟု
၂၄ မိန့်တော်မူ၏။- မိန်းမကလည်း၊ မေရှိယလာတော်
မူမည်ဟု အကျွန်ုပ်သိပါ၏၊ ရောက်တော်မူသော
အခါ အကျွန်ုပ် တို့ အား အလုံးစုံတို့ကို ဟော်ပြ
တော်မူမည်ဟုလျှောက်ပြန်၏၊ မေရှိယအနက်ကား
၂၅ ခရစ်တော်ဟုဆိုလိုသတည်း။-ယေရှုကလည်း၊
သင်နှင့် စကားပြောသော ငါသည် မေရှိယဖြစ်
သည်ဟုမိန့်တော်မူ၏။
၂၆ ထိုအခါတပည့်တော်တို့သည် ရောက်လာ၍၊
ထိုမိန်းမနှင့် စကားပြောတော်မူသည်ကို အံ့ဩ
ခြင်းရှိကြ၏၊ သို့သော်လည်း၊ အဘယ် အလို
တော်ရှိသနည်း၊ ထိုမိန်းမနှင့်အဘယ်ကြောင့်စကား
ပြောတော်မူသနည်းဟု၊ အဘယ်သူမျှမလျှောက်
၂၇ ကြ။- ထိုမိန်းမသည်လည်း ရေအိုးကိုထားခဲ့၍ မြို့
၂၈ ထဲသို့သွားပြီးလျှင်၊-အကျွန်ုပ်ပြုဘူးသမျှသော
အမှုအရာ တို့ကို ထုတ်ဖော်သော သူကို လာ၍
ကြည့်ကြပါ၊ ထိုသူသည်ခရစ်တော်မှန်လိမ့်မည်
၂၉ လောဟု၊ လူများတို့အားပြောဆိုသော်၊- သူတို့
သည်မြို့ထဲမှထွက်၍အထံတော်သို့သွားကြ၏။-
၃၀ မရောက်မှီတွင်တပည့်တော်တို့က၊ အရှင်ဘုရား၊
အစာကို သုံးဆောင် တော် မူပါဟု တောင်းပန်
၃၁ ကြလျှင်၊- သင်တို့မသိသော စားစရာသည်ငါ၌
၃၂ ရှိသည်ဟု မိန့် တော်မူ၏။- ထိုကြောင့် တပည့်
တော်တို့က၊ တစုံတယောက်သောသူသည်စား
စရာကို ယူခဲ့ပြီလောဟု၊ အချင်းချင်း မေးမြန်း ကြ
၃၃ လျှင်၊- ယေရှုက၊ ငါ့ကိုစေလွှတ်တော်မူသောသူ
၏အလိုတော်ကိုဆောင်ခြင်း၊ သူ၏အမှုတော်ကို
၃၄ ပြီးစီးခြင်း အမှုသည် ငါ့စားစရာဖြစ်၏။- လေးလမှ
စ၍လေးလလွန်လျှင်၊ စပါးရိတ်ရာကာလ ဖြစ်
လိမ့်မည်ဟု၊ သင်တို့ဆိုတတ်သည်မဟုတ်လော၊
ငါဆိုသည်ကား၊ စပါးရိတ်ခြင်းအလို့ငှါလယ်
ပြင်တို့သည် ထွေပင်ဝင်းဝင်းရှိသည်ကို မျှော်၍
၃၅ ကြည့်ကြလော့။- စပါးရိတ်သောသူသည် အခ
ကိုခံရ၍ ထာဝရ အသက် ရှင်ခြင်း အလို့ငှါ၊ အ
သီးအနှံကို စုသိမ်း၏၊ သို့ဖြစ်လျှင်၊ မျိုးကြဲသော
သူနှင့် စပါး ရိတ်သော သူတို့ သည် အတူဝမ်း
၃၆ မြောက်ကြလိမ့်မည်။- တဦးကားမျိုးကြဲ၏၊ တ
ဦးကားစပါးရိတ်၏ဟူသောစကားသည် ဤအ
၃၇ ရာ၌ အမှန်ကျသတည်း။- ထင်ထိုသည် ထယ်မ

ထုစ်သော အရပ်၌ စပါးရိတ်စေခြင်းငှါ သင်တို့
ကို ငါစေလွှတ်၏၊ အခြားသောသူတို့သည်ထထ်
လုပ်ကြ၍၊သင်တို့သည်ထိုသူတို့၏အလုပ်ထဲသို့
ဝင်ရကြ၏ဟုမိန့်တော်မူ၏။
၃၉ ရှမာရိမြို့က၊ အကျွန်ုပ်ပြုဘူးသမျှသောအမှု
အရာတို့ကိုသူသည်ထုတ်ဖော်ပြီဟု သက်သေခံ
သောစကားကြောင့်၊ ထိုမြို့၌နေသောရှမာရိ လူ
၄၀ အများတို့သည် ယေရှုကို ယုံကြည်ကြ၏။- ထို
ကြောင့်၊ရှမာရိလူတို့သည်အထံတော်သို့ရောက်
လျှင်၊ မိမိတို့အရပ်၌နေတော်မူမည်အကြောင်း
တောင်းပန်ကြ၏၊ထိုအရပ်၌နှစ်ရက်နေတော်မူ
၄၁ ၏။- အခြားသော သူအများ တို့သည် နှုတ်က
၄၂ ပတ်စကား တော်ကြောင့် ယုံကြည်၍ - ထို မိန်း
မ၊ ယခုဖြစ်လျှင်၊ ငါတို့သည် သင်၏ စကား
ကြောင့်သာယုံကြည်သည်မဟုတ်၊ စကားတော်
ကို ကိုယ်တိုင်ကြားနာရ၍၊ ဤသူသည် လောကီ
သားတို့ကိုကယ်တင်တော်မူသော သခင်တည်း
ဟူသော ခရစ်တော် အမှန် စင်စစ် ဖြစ်တော်မူ
ကြောင်းကိုသိသည်ဟုဆိုကြ၏။
၄၃ နှစ်ရက်လွန်ပြီးလျှင်၊ ထိုအရပ်မှထွက်၍ နာ
ဇရက်မြို့ကိုရှောင်လျက်၊ ဂါလိလဲ ပြည်သို့ ကြွ
၄၄ တော်မူ၏။- အကြောင်းမူကား၊ပရောဖက်သည်
မိမိ နေရင်းပြည်၌ အသရေမရှိဟု၊ ယေရှုသည်
၄၅ ကိုယ်တိုင်သက်သေခံတော်မူ၏။- ဂါလိလဲပြည်
သို့ရောက်တော်မူသောအခါ၊ဂါလိလဲလူတို့သည်
ကိုယ်တော်ကိုလက်ခံကြ၏၊အကြောင်းမူကား
ထို သူတို့ သည် ယေရု ရှလင် မြို့၌ ခံသော ပွဲသို့
သွားတတ်သဖြင့်၊ ထိုပွဲ အတွင်းတွင် ပြုတော်မူ
သမျှတို့ကိုမြင်ခဲ့ကြ၏။
၄၆ ရေကိုစပျစ်ရည်ဖြစ်စေသောအရပ်၊ ဂါလိလဲ
ပြည် ကာန မြို့သို့ တဖန် ကြွ တော်မူ၏၊ က ပေ
ရနောင်မြို့၌ အမတ်တယောက်၏ သားသည်အ
၄၇ နာရောဂါစွဲလျက်ရှိ၏။- ယေရှုသည်ယုဒပြည်မှ
ဂါလိလဲ ပြည်သို့ ရောက်တော်မူသည်ကို ထိုအ
မတ်သည်ကြားလျှင်၊အထံတော်သို့သွား၍သေ
ခါနီးဖြစ်သောမိမိသားဆီသို့ကြွ၍အနာရောဂါ
ကို ငြိမ်းစေတော်မူမည်အကြောင်း၊ တောင်းပန်
၄၈ လေ၏။- ယေရှုကလည်း၊ သင်တို့သည် နိမိတ်
လက္ခဏာနှင့် အံ့ဩဖွယ်သောအမှု တို့ကို မမြင်ရ
၄၉ လျှင်၊ယုံခြင်းမရှိကြဟုမိန့်တော်မူသော်၊-သခင်၊
အကျွန်ုပ်သားမသေမှီ ကြွတော်မူပါဟု၊ အမတ်
၅၀ လျှောက်ပြန်၏။- ယေရှုကလည်း၊ သွားလော့၊
သင်၏ သားသည် အသက် ရှင်သောရပြီဟု မိန့်
တော်မူ၏၊ ထို အမတ် သည်၊ ယေရှု မိန့်တော် မူ
၅၁ သောစကားကိုယုံ၍သွားလေ၏။- လမ်း၌ သွား
စဉ်တွင်မိမိငယ်သားတို့သည်ခရီးဦးကြိုလာ၍၊
ကိုယ်တော်၏ သားသည် အသက်ရှင်သောရပါ
၅၂ ပြီဟု ကြား လျှောက်ကြ၏။- အသက် အမှိန်၌
သက်သာခြင်းသို့ရောက်သနည်းဟု မေးလျှင်၊မ
နေ့ ခုနှစ်နာရီအချိန်၌ ဖျားနာပျောက်ပါသည်ဟု
၅၃ လျှောက် ကြ၏။- ထို အချိန်ကား၊ သင်၏ သား
သည် အသက်ရှင်သောရပြီဟု၊ ယေရှုမိန့်တော်
မူသောအချိန်ဖြစ်သည်ကိုအဖသိ၍၊ကိုယ်တိုင်
မှစသော မိမိအိမ်သူအိမ်သားအပေါင်းတို့သည်
၅၄ ယုံကြည်ခြင်းသို့ ရောက်ကြ၏။- ဤနိမိတ်လက္ခ
ဏာတော်ကား၊ယေရှုသည်ယုဒပြည်မှဂါလိလဲ
ပြည်သို့ကြွသည်နောက်၊ပြတော်မူသောဒုတိယ
နိမိတ်လက္ခဏာဖြစ်သတည်း။

၅

၁ ထို နောက်မှ ယုဒ ပွဲခံစည်တွင်၊ ယေရှု သည်
၂ ယေရုရှလင်မြို့သို့ကြွတော်မူ၏။- ယေရုရှလင်မြို့
၌ သိုးတံခါးနားမှာ ဟေဗြဲဘာသာ စကားအား
ဖြင့် ဗေသေသဒအမည်ရှိသောရေကန်ရှိ၏၊ ထို
ရေကန်သည် ကနားပြင် ငါးဆောင်နှင့် ပြည့်စုံ
၃ ၏။- ထိုကနားပြင်တို့၌ မျက်စိကန်း၊ ခြေမစွမ်း၊
ကိုယ်မိန်ခြောက်သောသူတို့မှစ၍၊အနာရောဂါ
စွဲသော သူများ အပေါင်း တို့သည် ရေလှုပ်ရှား
၄ ခြင်းကို မျှော်လင့်၍ နေကြ၏။- အ ကြောင်း မူ
ကား၊အချိန်တန်လျှင်၊ကောင်းကင်တမန်သည်
ရေကန်သို့ဆင်းသက်၍ ရေကိုလှုပ်ရှား တတ်၏၊
ထိုသို့ ရေလှုပ်ရှား သည် နောက်၊ ရှေ့ဦးစွာ ဝင်
သောသူသည်မိမိ၌စွဲသမျှသောအနာရောဂါနှင့်
ကင်းလွတ်ခြင်းသို့ရောက်တတ်၏။
၅ ထိုအခါ သုံးဆယ် ရှစ်နှစ် ပတ်လုံး ရောဂါ စွဲ
သော သူတယောက်သည် ရေကန်နားမှာ ရှိ၏၊-
၆ ထိုသူသည် တုံးလုံး နေသည်ကို ယေရှုမြင်တော်
မူ၍ ကြာ လှ ပြီဟု သိတော် မူလျှင်၊ သင် သည်
ကျန်းမာခြင်းသို့ ရောက်လိုသလောဟုမေးတော်
၇ မူ၏။- နာသောသူကလည်း၊ သခင်၊ရေလှုပ်ရှား
သောအခါ ရေကန်ထဲသို့ အကျွန်ုပ်ကိုသွင်းလော
မည်သူ မရှိပါ၊ အကျွန်ုပ် သွားစဉ်တွင် အခြား
သောသူသည် အကျွန်ုပ်ရှေ့မှာဝင်တတ်ပါသည်
၈ ဟုလျှောက်၏။-ယေရှုကလည်း၊ထထော့၊ကိုယ်
အိပ်ရာကိုဆောင်၍ သွားလော့ဟုမိန့်တော်

၉ ဓုသည်- ခဏချင်းတွင် ထိုသူသည် ပကတိအ
ဖြစ်သို့ ရောက်၍၊ မိမိအိပ်ရာကို ဆောင်လျက်
လှမ်းသွား၏။
၁၀ ထိုနေ့သည်ဥပုသ်နေ့ဖြစ်၏၊ထိုကြောင့်၊ ယုဒ
လူတို့က၊ ဥပုသ်နေ့ဖြစ်၏၊ အိပ်ရာကို မဆောင်
၁၁ အပ်ဟုရောဂါကင်းသောသူအားဆိုကြ၏။-သူ
ကလည်း၊ အကျွန်ုပ်ကို ကျန်းမာစေသောသူက၊
ကိုယ်အိပ်ရာကိုဆောင်၍ လှမ်းသွားလော့၊ ဆို
၁၂ ကဦးတုပြန်ပြော၏။- ယုဒလူတို့ကလည်း၊ကိုယ်
အိပ်ရာကို ဆောင်၍ လှမ်း သွား လော့ဟု၊ သင့်
အား ဆိုသောသူကား၊ အဘယ်သူနည်းဟု မေး
၁၃ မြန်းကြ၏။-ထိုသူကား၊အဘယ်သူဖြစ်သည်ကို၊
ရောဂါကင်းသော သူသည်မသိ၊ အကြောင်းမူ
ကား၊ ထိုအရပ်၌လူစုဝေးလျက်ရှိသည်ဖြစ်၍၊
ယေရှုသည်မထင်မရှားထွက်ကြွတော်မူ၏၊
၁၄ ထိုနောက်မှယေရှုသည်ဗိမာန်တော်၌ထိုသူ
ကို တွေ့တော်မူလျှင်၊ သင်သည် ကျန်းမာခြင်းရှိ
၏၊ သာ၍ဆိုးသောဘေးနှင့် ကင်းလွတ်စည်အ
ကြောင်း၊ နောက်တဖန်ဒုစရိုက်ကိုမပြုနှင့်ဟုမိန့်
၁၅ တော်မူ၏။- ထိုသူသည်သွား၍ မိမိကိုကျန်းမာ
စေသောသူသည်ယေရှုဖြစ်သည်ကို၊ ယုဒလူတို့
၁၆ အားကြားပြောလေ၏။- ထိုအမှုကို ဥပုသ်နေ့၌
ပြုတော်မူသောကြောင့်၊ ယုဒလူတို့သည် ယေရှု
၁၇ ကို ညှဉ်းဆဲကြ၏။- ယေရှုကလည်း၊ ငါ့ခမည်း
တော်သည်ယခုတိုင်အောင်အလုပ်လုပ်တော်မူ
သည်ဖြစ်၍၊ ငါသည်လည်းလုပ်၏ဟု ပြန်ပြော
၁၈ တော်မူ၏။- သို့ဖြစ်၍၊ ဥပုသ်နေ့ကိုဖျက်သည်
သာမက၊ ဘုရားသခင်ကို မိမိအဘ ဟု ခေါ်၍
မိမိကိုဘုရားသခင် နှင့် ပြိုင်ပြိုင်တော် မူသော
ကြောင့်၊ ယုဒ လူတို့သည် ကိုယ်တော်ကို သတ်
ခြင်းငှါသာ၍ ရှာကြံကြ၏။
၁၉ ယေရှုကလည်း၊သင်တို့အားငါအမှန်အကန်
ဆိုသည်ကား၊ ခမည်းတော်ပြုတော်မူသောအမှု
ကို သားတော်သည်မြင်၍သာပြု၏၊ မိမိအလိုအ
လျောက်အဘယ်အမှုကိုမျှမပြုနိုင်၊ခမည်းတော်
ပြုတော်မူသမျှအတိုင်း သားတော်လည်းပြု၏။-
၂၀ ခမည်းတော်သည်သားတော်ကိုချစ်တော်မူ၍ပြု
တော်မူသမျှတို့ကို သားတော်အားပြတော်မူ၏၊
သင်တို့သည် အံ့ဩခြင်းရှိစေခြင်းငှါ၊ ဤမျှ
မကသာ၍ ကြီးစွာ သောအမှု အရာတို့ကို သား
၂၁ တော်အား ပြတော်မူလိမ့်မည်။- ခမည်းတော်
သည် သေလွန်သောသူတို့ကို ထမြောက်စေ၍ ပြန်
ပေတော်မူသကဲ့သို့၊ထိုနည်းတူသားတော်သည်
၂၂ လည်းအလိုရှိသမျှသောသူတို့ကိုရှင်စေ၏။- လူ
အပေါင်းတို့သည် ခမည်းတော်ကို ရိုသေသည်
၂၃ နည်းတူ၊-သားတော်ကိုရိုသေစေမည်အကြောင်း
ခမည်းတော်သည် အဘယ်သူကိုမျှတရားစီရင်
တော်မမူ၊တရားစီရင်ခြင်းအခွင့်ရှိသမျှကိုသား
တော်အားအပ်ပေးတော်မူ၏၊ သားတော်ကိုမရို
သေသော သူသည်ကား၊ သားတော်ကိုစေလွှတ်
တော်မူသောခမည်းတော်ကိုမရိုသေသောသူဖြစ်
၂၄ ၏။- ငါအမှန်အကန်ဆိုသည်ကား၊ ငါ့စကားကို
နားထောင်၍၊ငါ့ကိုစေလွှတ်တော်မူသောသူကိုယုံ
ကြည်သောသူသည်ထာဝရအသက်ကို ရသည်
ဖြစ်၍၊ အပြစ်စီရင်ခြင်းကို မခံရ၊ သေခြင်းမှအ
သက်ရှင်ခြင်းသို့ကူးပြောင်းသောသူဖြစ်၏။
၂၅ ငါအမှန်အကန်ဆိုသည်ကား၊သေလွန်သော
သူတို့သည် ဘုရားသခင်သားတော်၏ စကားသံ
ကိုကြား၍၊ ကြားသောသူတို့သည် အသက်ရှင်ရ
မည့်အချိန်ကာလသည်လာ၍ ယခုပင်ရောက်
၂၆ လျက်ရှိ၏။- အကြောင်းမူကား၊ ခမည်းတော်
သည် ကိုယ်၌ အသက်ရှိတော်မူသည် နည်းတူ၊
သားတော်သည် မိမိ၌ အသက်ရှိရသော အခွင့်
၂၇ ကိုပေးတော်မူ၏။- သားတော်သည်လူသားဖြစ်
သောကြောင့်၊ တရားစီရင်ခြင်းအခွင့်ကိုလည်း
၂၈ အပ်ပေးတော်မူ၏။- ဤအမှုအရာကို အံ့ဩ
ခြင်းမရှိကြနှင့်၊ သင်းချိုင်းများ၌ရှိသောသူအ
ပေါင်းတို့သည် သားတော်၏စကားသံကို ကြား
၂၉ ၍၊- ထွက်ရမည့်အချိန်ကာလ ရောက်လတ္တံ့၊
ကောင်းသော အကျင့်ကို ကျင့်သော သူတို့သည်
အသက်ရှင်ရာထမြောက်ခြင်းသို့၎င်း၊ ဆိုးယုတ်
သောအကျင့်ကို ကျင့်သော သူတို့သည် အပြစ်စီ
ရင်ရာ ထမြောက်ခြင်းသို့၎င်း ထွက်ရကြလတ္တံ့။-
၃၀ ငါသည် ကိုယ် အလို အလျောက် အဘယ် အမှု
ကိုမျှမပြုနိုင်၊ငါသည်ကြားသည်အတိုင်း တရား
စီရင်၏၊ ငါ စီရင်ခြင်းသည်လည်း တရားတော်
နှင့်ညီညွတ်၏၊အကြောင်းမူကား၊ငါသည်ကိုယ်
အလို သို့ မလိုက်၊ ငါ့ကို စေလွှတ် တော် မူသော
ခမည်းတော်၏အလိုသို့လိုက်၏။
၃၁ ငါသည်ကိုယ်အကြောင်းကိုသက်သေခံလျှင်
၃၂ သက်သေမတည်၊- ငါ၏အကြောင်းကို သက်
သေခံသောသူတပါးရှိသေး၏၊ထိုသူ၏သက်သေ
တည်ကြောင်းကိုငါသိ၏။- သင်တို့သည် ယော
ဟန်ထံသို့ စေလွှတ်ကြ၏၊ သူသည်သစ္စာတရား

၃၄ လက်၌သက်သေခံ၏။ သို့သော်လည်း၊ လူပေး
သောသက်သေကိုငါသည်ပမာဏမပြု၊ သင်တို့
သည်ကယ်တင်ခြင်းသို့ ရောက်မည်အကြောင်း၊
၃၅ ဤစကားကိုငါပြော၏။ ယောဟန်သည်ညှိထွန်း
၍လင်းသောဆီမီးဖြစ်၏၊ သင်တို့သည် သူ၏အ
လင်း၌ခဏသာရွှင်လျှော်ခြင်းငှါအလိုရှိကြ၏။
၃၆ ယောဟန်၏ သက် သေ ထက် သာ၍ ကြီးသော
သက်သေသည် ငါ၌ရှိ၏၊ အကြင်အမှုတို့ကို ငါ
ပြီးစီးစေခြင်းငှါ၊ ခမည်းတော်သည် ငါ့အား
အပ်ပေးတော်မူ၍၊ ငါပြုသော ထိုအမှုတို့သည်
လည်းငါ့ထက်၌နေ၍၊ ခမည်းတော်သည်ငါ့ကိုစေ
လွှတ်တော်မူသည်အကြောင်းကိုသက်သေခံကြ
၃၇ ၏။ ခမည်းတော်သည်လည်း၊ ငါ့ထက်၌ သက်
သေခံတော်မူ၏၊ ခမည်းတော်၏စကားသံတော်
ကိုသင်တို့သည်မကြား၊ သဏ္ဌာန်တော်ကိုမမြင်။
၃၈ နှုတ်ကပတ်တော်သည်လည်း၊ သင်တို့၌မတည်။
အကြောင်းမူကား၊ စေလွှတ်တော်မူသော သူကို
သင်တို့သည် မယုံကြည်ဘဲနေကြ၏။
၃၉ ကျမ်းစာအားဖြင့် ထာဝရအသက်ကို ရမည်
ဟု မိတ်ထင်နှင့်သင်တို့သည် ကျမ်းစာကို စေ့စေ့
ကြည့်ရှုကြ၏၊ ထိုကျမ်းစာပင်ငါ၏သက်သေဖြစ်
၄၀ ၏။ သင်တို့သည် အသက်ကို ရအောင်ငါ့ထံသို့
၄၁ လာခြင်းငှါအလိုမရှိကြ။ လူပေးသောဘုန်းအ
၄၂ သရေကိုငါမခံ။ သို့သော်လည်း၊ ဘုရားသခင်ကို
ချစ်ခြင်းမေတ္တာသည်သင်တို့၌မရှိသည်ကိုငါသိ
၄၃ ၏။ ငါသည်ခမည်းတော်၏အခွင့်နှင့်ရောက်လာ
သော်လည်း၊ သင်တို့သည်ငါ့ကိုလက်မခံကြ။ အ
ခြားသောသူသည်မိမိ့အခွင့်နှင့်ရောက်လာလျှင်၊
၄၄ ထိုသူကိုလက်ခံကြလိမ့်မည်။ အချင်းချင်း ပေး
သောဘုန်းအသရေကိုသာခံ၍၊ ဘုရားသခင်သာ
လျှင်ပေးတော်မူတတ်သော ဘုန်းအသရေကိုအ
လိုမရှိသော သင်တို့သည် အဘယ်သို့ ယုံကြည်
၄၅ နိုင်မည်နည်း။ ခမည်းတော်ရှေ့၌ ငါသည်သင်
တို့ကိုအပြစ်တင်မည်ဟုမထင်ကြနှင့်။ သင်တို့ကို
အပြစ်တင်သောသူတပါးရှိသေး၏၊ ထိုသူကား၊
၄၆ သင်တို့ ကိုးစားသော မောရှေ ပေတည်း။ သင်
တို့သည်မောရှေ၏စကားကိုယုံလျှင်၊ ငါ့စကားကို
မယုံဘဲမနေနိုင်ကြ၊ အကြောင်းမူကား၊ မောရှေ
၄၇ သည်ငါ့အကြောင်းကိုရေးထား၏။ သူရေးထား
သောစာကို သင်တို့သည်မယုံလျှင်၊ ငါ့စကားကို
အဘယ်သို့ယုံနိုင်မည်နည်းဟု၊ ယုဒလူတို့အား
မိန့်တော်မူ၏။

၆

၁ ထိုနောက်မှယေရှုသည်တိဗေရိအိုင်တည်းဟူ
၂ သောဂါလိလဲအိုင်ကိုကူးတော်မူ၏။ အနာရော
ဂါစွဲသောသူတို့၌ပြတော်မူသော နိမိတ်လက္ခ
ဏာတို့ကိုလူအစုအဝေးအပေါင်းတို့သည် မြင်
၃ ကြသဖြင့်၊ နောက်တော်သို့လိုက်ကြ၏။ ယေရှု
သည်တောင်ပေါ်သို့တက်ကြွ၍ တပည့်တော်တို့
၄ နှင့်အတူ ထိုင် တော်မူ၏။ ထိုအခါ ယုဒလူတို့၏
ပသခါပွဲခံချိန်ရောက်လုနီးသတည်း။
၅ ယေရှုသည် မျှော်ကြည့်၍ လူအစုအဝေးအ
ပေါင်း တို့သည် အထံတော်သို့ လာကြသည် ကို
မြင်တော်မူလျှင်၊ ဖိလိပ္ပုအား၊ ဤသူတို့ စားစရာ
မုန့်ကိုအဘယ်မှာဝယ်မည်နည်းဟုမေးတော်မူ
၆ ၏။ ထိုသို့မေးတော်မူသော်၊ မိမိအဘယ်သို့ပြုမည်
ကိုသိတော်မူလျက်ပင်၊ ဖိလိပ္ပုကိုစုံစမ်းခြင်းငှါ
၇ သာ မေးတော်မူ၏။ ဖိလိပ္ပုကလည်း၊ ဤသူတို့
သည်မုန့်တစုံစီ စားလောက်အောင်ဒေနာရိအပြားနှစ်ရာ
အဖိုး ထိုက်သော မုန့် မလောက် ပါဟု လျှောက်
၈ ၏။ ရှိမုန်ပေတရု၏ညီ၊ အန္ဒြေအမည်ရှိသောတ
၉ ပည့်တော်က၊ မုယောမုန့်ငါးလုံးနှင့်ငါးကလေး
နှစ်ကောင်ပါသောသူငယ်တယောက်ရှိပါ၏၊ သို့
သော်လည်း၊ ဤမျှလောက် များစွာ သော လူတို့
သည်ရှိကြသည်ဖြစ်၍၊ ထိုမုန့်နှင့်ငါးနှစ်ကောင်
တို့ကို အဘယ်ပြောစရာရှိပါသနည်းဟုလျှောက်
၁၀ ၏။ ယေရှုကလည်း၊ လူများတို့ကိုလျောင်းကြ
စေဟုမိန့်တော်မူ၏၊ ထိုအရပ်၌မြက်ပင်ထူပြော
လျက်ရှိသည်ဖြစ်၍၊ ယောကျ်ားအတွက်အားဖြင့်ငါး
ထောင်မျှလောက်သောသူတို့သည် လျောင်းကြ
၁၁ ၏။ ယေရှုသည် မုန့်ကိုယူ၍ကျေးဇူးတော်ကို
ချီးမွမ်းပြီးမှ၊ တပည့်တော်တို့အားဝေငှတော်မူ
၍၊ တပည့်တော်တို့သည် လျောင်းသော သူတို့
အားဝေငှပြန်၏၊ ထိုနည်းတူ၊ ငါးနှစ်ကောင်ကို
၁၂ လူများတို့ချင်သမျှဝေငှကြ၏။ ထိုသူတို့သည်ဝ
ကြပြီးမှ ကိုယ်တော်က၊ တာမျှမပျောက်စေခြင်း
ငှါ ကျန်ကြွင်းသော အကျိုးအပဲ့တို့ကို ကောက်
သိမ်းကြလော့ဟု၊ တပည့်တော်တို့အားမိန့်တော်
၁၃ မူသည် ဖြစ်၍၊ စားသော သူ တို့၌ ကျန်ကြွင်း
သော မုယော မုန့် ငါးလုံး ၏ အကျိုး အပဲ့ တို့ကို
ကောက်သိမ်း၍ တဆယ့်နှစ်တောင်းအပြည့်ရ
၁၄ ကြ၏။ ထိုသို့ယေရှုပြတော်မူသော နိမိတ်လက္ခ
ဏာကိုထိုလူများတို့သည်မြင်လျှင်၊ ဤသူကား
ဤလောကသို့ ကြွလာရသော ပရောဖက် အမှန်

၁၅ ဖြစ်သည်ဟုဆိုကြ၏။- ထိုသူတို့သည်ကိုယ်တော်
ကို ရှင်ဘုရင် အရာ၌ ချီး မြှောက် ခြင်းငှါ လာ၍
အနိုင်အထက် ပြု ကြ မည်အကြောင်းကို ယေရှု
သည်သိတော်မူလျှင်၊ တောင်ပေါ်သို့တပါးတည်း
ထွက်တော်မူပြန်၏။
၁၆ ညအချိန်ရောက်သောအခါ တပည့်တော် တို့
သည် ဆိုင် သို့ သွား၍ လှေ ထဲ သို့ ဝင်ပြီးလျှင်၊
ကပေရနောင်မြို့သို့ရောက်အံ့သောငှါဆိုင်ကိုကူး
၁၇ ကြ၏။- ထိုအခါ မှောင်မိုက်ဖြစ်၍၊ ယေရှုသည်
၁၈ သူတို့ရှိရာသို့မရောက်သေး။-လေပြင်းမုန်တိုင်း
၁၉ လာ၍ လှိုင်းတံပိုးထလေ၏။- ခရီးတတိုင်ခွဲ၊ နှစ်
တိုင် လောက် တက် ခတ်၍ ရောက် သော အခါ၊
ယေရှုသည်ဆိုင်ပေါ်မှာခြေတော်ဖြင့်၍၊ လှေအ
နီးသို့ ချဉ်းတော်မူသည်ကို သူတို့သည် မြင်၍
၂၀ ကြောက် လန့် ခြင်း ရှိ ကြ ၏။- ကိုယ် တော် က
လည်း၊ ငါပင် ဖြစ်သည်၊ မကြောက်လန့်ကြနှင့်
ဟု မိန့်တော်မူလျှင်၊ လှေ ထဲ သို့ ကိုယ် တော်ကို
၂၁ ဝမ်းမြောက် စွာ ခံယူ ကြ၏။- လှေ သည်လည်း
ရောက်လိုသောအရပ်သို့တခဏချင်းတွင်ဆိုက်
လေ၏။
၂၂ ဆိုင်တဖက်၌နေသောလူအစုအဝေးတို့သည်
၂၃ ကား၊- အထက်ကသခင်ဘုရားသည် ကျေးဇူး
တော်ကို ချီးမွမ်းပြီး၍၊ လူများသည် မုန့်ကိုစား
ကြရာအရပ်နှင့်အနီး၊ တိဗေရိမြို့မှအခြားသော
လှေငယ်များ လာ သော်လည်း၊ မနေ့၌ တပည့်
တော်တို့ဝင်သောလှေမှတပါးအခြားလှေမျှမရှိ
သည်ကိုငှင်၊ ယေရှုသည် ထိုလှေထဲသို့ တပည့်
တော်တို့နှင့်အတူ ဝင်တော်မမူဘဲလျက်၊ တပည့်
၂၄ တော်တို့သာ သွားသည်ကိုငှင်မြင်ကြ၍၊-ထိုအ
ရပ်၌ ယေရှုမှစသောတပည့်တော်တို့ မရှိသည်
ကိုသိကြသဖြင့်၊ နက်ဖန်နေ့၌လှေစီး၍ ယေရှုကို
၂၅ ရှာခြင်းငှါ ကပေရနောင်မြို့သို့သွားကြ၏။- ဆိုင်
တဖက်၌တွေ့လျှင်၊ အရှင်ဘုရား၊ အဘယ်သော
အခါ၌ဤအရပ်သို့ ကြွလာတော်မူသနည်းဟုမေး
၂၆ လျှောက်ကြ၏။- ယေရှုကလည်း၊ ငါအမှန်အ
ကန်ဆိုသည်ကား၊ သင်တို့သည် နိမိတ်လက္ခဏာ
တို့ကို မြင်သောကြောင့် ငါ့ကိုရှာသည်မဟုတ်။-
၂၇ မုန့်ကိုစား၍ဝသောကြောင့်သာရှာကြ၏။ ပျက်
စီးတတ် သော အစာကို ရ ခြင်းငှါ မ ကြိုးစားကြ
နှင့်၊ လူသားသည် သင်တို့အားပေး၍၊ ထာဝရ
အသက်နှင့် ဆက်ဆံ တည် တတ် သော အစာကို ရ
ခြင်းငှါကြိုးစားကြလော့။ ထိုသားသည်ခမည်း

တော်ဘုရား၏တံဆိပ်ခတ်ခြင်းကိုခံသောသူဖြစ်
သည်ဟုမိန့်တော်မူ၏။
၂၈ ထိုသူတို့ကလည်း၊ ဘုရားသခင်၏အလိုတော်
နှင့်ညီသောအကျင့်ကို ကျင့်ခြင်းငှါ အဘယ်သို့
၂၉ ပြုရပါမည်နည်းဟုမေးလျှောက်ကြ၏။- ယေရှု
ကလည်း၊ ဘုရားသခင်စေလွှတ်တော်မူသောသူ
ကိုယုံကြည်ခြင်းအကျင့်ကား၊ အလိုတော်နှင့်ညီ
၃၀ သောအကျင့်တည်းဟုမိန့်တော်မူ၏။- ထိုသူတို့
ကလည်း၊ အကျွန်ုပ် တို့သည် ကိုယ် တော်ကိုနှင့်
မြင်၍ကိုယ်တော်ကို ယုံကြည်မည်အကြောင်း၊
အဘယ်နိမိတ်လက္ခဏာကိုပြတော်မူသနည်း။
၃၁ အဘယ်အမှုကိုပြုတော်မူသနည်း။- ကျမ်းစာ၌
လာသည်ကား၊ ထိုသူတို့စားစရာဖို့ကောင်းကင်
မှမုန့်ကိုပေးတော်မူသည်ဟုလာသည်နှင့်အညီ၊
ငါတို့ ဘိုးဘေးများသည် တော၌ မန္နကိုစားကြ
သည်ဟုလျှောက်ကြ၏။
၃၂ ယေရှု ကလည်း၊ ငါ အ မှန် အကန် ဆို သည်
ကား၊ မောရှေသည် ကောင်းကင်မုန့်ကို သင်တို့
အားမပေး၊ ခမည်းတော်သည် မှန်သောကောင်း
၃၃ ကင်မုန့်ကိုသင်တို့အား ပေးတော်မူ၏။- ဘုရား
သခင်၏မုန့်ဟူကား၊ ကောင်းကင်မှဆင်းသက်၍၊
လောကီသားတို့အား အသက်ကို ပေးသောမုန့်
၃၄ ပေတည်းဟုမိန့်တော်မူလျှင်၊- သခင်၊ ထိုမုန့်ကို
အကျွန်ုပ် တို့အား အစဉ်မပြတ် ပေးတော်မူပါ
၃၅ ဟုလျှောက်ကြ၏။-ယေရှုကလည်း၊ ငါသည်အ
သက်မုန့်ဖြစ်၏။ ငါ့ထံသို့လာသောသူသည်နောက်
တဖန် အသာအငတ်မခံရ။ ငါ့ကို ယုံကြည်သော
၃၆ သူသည် နောက်တဖန် ရေငတ်မခံရ။- သို့သော်
လည်း၊ သင်တို့သည် ငါ့ကိုမြင်လျက်ပင်မယုံကြည်
၃၇ ကြဟုငါဆိုခဲ့ပြီ။-ခမည်းတော်သည်ငါ့အားပေး
တော် မူသမျှ သော သူတို့သည် ငါ့ထံသို့ လာကြ
လိမ့်မည်။ ငါ့ထံသို့ လာ သော သူကို ငါသည်အ
၃၈ လျှင်းမပယ်။-အကြောင်းမူကား၊ ငါသည်ကိုယ်
အလိုသို့လိုက်ခြင်းငှါ ကောင်းကင်မှဆင်းသက်
သည်မဟုတ်။ ငါ့ကိုစေလွှတ်တော်မူသောသူ၏အ
၃၉ လိုတော်သို့လိုက်ခြင်းငှါဆင်းသက်၏။-ငါ့ကိုစေ
လွှတ် တော်မူသော ခမည်း တော်၏ အလို တော်
ကား၊ ငါ့အားပေးသောသူတို့တွင်တစုံတယောက်
ကိုမျှငါမပျောက်စေရဘဲ၊ နောက်ဆုံးသောနေ့၌
ထိုသူအပေါင်းတို့ကို ထမြောက်စေခြင်းငှါ ငှင်း။-
၄၀ သားတော်ကို ကြည့်မြင်၍ ယုံကြည်သော သူ ရှိ
သမျှတို့သည် ထာဝရ အသက်ကို ရစေခြင်းငှါ

ရှင် စေလိုတော်မူ၏။ ငါသည်လည်း နောက်ဆုံး
သောနေ့၌ ထိုသူတို့ကို ထမြောက်စေမည်ဟု မိန့်
တော်မူ၏။
၄၁ ငါသည် ကောင်းကင်မှ ဆင်းသက်သော မုန့်
၄၂ ဖြစ်၏ဟု မိန့်တော်မူသည်ကို ယုဒလူတို့က၊- ဤ
လူသည် ယောသပ်၏ သား ယေရှု ဖြစ်သည် မ
ဟုတ်လော၊ သူ၏မိဘကို ငါတို့သိသည်မဟုတ်
လော၊ ငါသည်ကောင်းကင်မှဆင်းသက်၏ဟု၊ ထို
သူသည် အဘယ်သို့ ဆိုရသနည်းဟု၊ ကဲ့ရဲ့ပြစ်တင်
၄၃ လျက် ဆိုကြ၏။- ယေရှုကလည်း၊ ငါ့ကို အချင်း
၄၄ ချင်း ကဲ့ရဲ့၍ အပြစ်ပတင်ကြနှင့်။- ငါ့ကိုစေလွှတ်
တော်မူသော ခမည်းတော်သည် သွေးဆောင်တော်
မမူလျှင်၊ အဘယ်သူမျှ ငါ့ထံသို့ မလာနိုင်။ လာ
သောသူကို နောက်ဆုံးသောနေ့၌ ငါထမြောက်
၄၅ စေမည်။- အနာဂတ္တိကျမ်းစာ၌ လာသည်ကား၊
ထိုသူ အပေါင်းတို့သည် ဘုရားသခင် ဆုံးမ သွန်
သင် တော် မူသော သူဖြစ် ကြ လိမ့်မည် ဟု လာ
သည်နှင့်အညီ၊ ခမည်းတော်ထံ၌ နားထောင်၍
နည်းခံသောသူမှန်သမျှတို့သည် ငါ့ထံသို့လာကြ
၄၆ ၏။- ထိုသို့ငါဆိုသော်၊ ဘုရားသခင်အထံတော်
က ကြွလာ သော သူမှတပါး၊ တစုံ တယောက်
သောသူသည် ခမည်းတော်ကို မြင်ခဲ့ပြီဟု မဆို
လို။ ကြွလာသောသူမူကား၊ ခမည်းတော်ကိုမြင်
၄၇ ခဲ့ပြီ။- ငါအမှန် အကန် ဆိုသည်ကား၊ ငါ့ကိုယုံ
ကြည်သော သူသည် ထာဝရ အသက်ကို ရ၏။-
၄၈-၄၉ ငါသည်အသက်မုန့်ဖြစ်၏။-သင်တို့ဘိုးဘေး
များသည်တောခွင်၌ မန္နကိုစားလျက်သေရကြ၏။-
၅၀ ကောင်းကင်မှဆင်းသက်သောမုန့်ကို စားသော
၅၁ သူသည် သေခြင်း နှင့် ကင်းလွတ်၏။- ငါ သည်
ကောင်းကင်မှ ဆင်းသက်သော အသက်မုန့်ဖြစ်
၏။ဤမုန့်ကိုစားသောသူမည်သည်ကား၊ အစဉ်
မပြတ် အသက်ရှင်လိမ့်မည်။ ငါပေးသော မုန့်
ကား၊ လောကီ သားတို့၏ အသက်အဖို့ အလို့ငှါ
စွန့် သော ငါ၏ အသား ပေ တည်းဟု မိန့် တော်
မူ၏။
၅၂ ထိုအခါ ယုဒလူတို့က၊ ဤသူသည် မိမိအသား
ကို ငါတို့စားစရာဘို့ အဘယ်သို့ ပေးနိုင်သနည်း
၅၃ ဟု၊ အချင်းချင်း ငြင်းခုံကြ၏။- ယေရှုကလည်း၊
ငါအမှန်အကန်ဆိုသည်ကား၊ လူသား၏အသား
ကိုမစား၊ အသွေးကိုမသောက်လျှင် သင်တို့၌အ
၅၄ သက်မရှိ။- ငါ၏အသားကို စား၍ ငါ၏အသွေး
ကိုလည်းသောက်သောသူသည် ထာဝရအသက်
ကိုရ၏။ ထိုသူကို နောက် ဆုံး သော နေ့၌ ငါထ
၅၅ မြောက်စေမည်။- ငါ၏ အသား သည် စား စရာ
ကောင်း၏။ ငါ၏ အသွေးလည်း သောက် စရာ
၅၆ ကောင်း၏။-ငါ၏အသားအသွေးကိုသောက်စား
သော သူသည် ငါ၌ တည်၏။ ထိုသူ၌ လည်း ငါ
၅၇ တည်၏။ အသက်ရှင်တော်မူသော ခမည်းတော်
သည် ငါ့ကို စေလွှတ်တော်မူ၍၊ ငါ သည် ခမည်း
တော်အားဖြင့် အသက်ရှင်သည်နည်းတူ၊ ငါ့ကို
စားသောသူသည် ငါ့ အားဖြင့် အသက် ရှင် လိမ့်
၅၈ မည်။- ဤ မုန့်ကား၊ ကောင်းကင်မှ ဆင်းသက်
သော မုန့်ဖြစ်၏။ သင်တို့ ဘိုးဘေးများသည် မန္န
ကို စား လျက် သေရသကဲ့သို့ မဟုတ်။ ဤ မုန့်ကို
စားသော သူသည် အစဉ် မပြတ် အ သက် ရှင်
၅၉ လိမ့်မည်ဟု၊- ကပေရနောင်မြို့မှာ တရားစရပ်၌
ဩဝါဒပေးစဉ်တွင် မိန့်တော်မူ၏။
၆၀ တပည့်တော်အများတို့သည် ကြားလျှင်၊ ထို
စကားသည် အလွန်ခက်လှ၏၊ အဘယ်သူနားခံ
၆၁ နိုင်မည်နည်းဟု ဆိုကြ၏။-ထိုသို့တပည့်တော်တို့
ကဲ့ရဲ့ အပြစ်တင်သည်ကို ယေရှုသည် အလိုအ
လျောက်သိတော်မူလျှင်၊ ဤတရားစကားကြောင့်
၆၂ သင်တို့သည် စိတ်ပျက်ကြသလော။- လူသား
သည်အရင်နေရာအရပ်သို့တဖန်ကြွတက်သည်
ကို မြင်ရလျှင်၊ အ ဘယ် သို့ ထင် မှတ် ကြ မည်
၆၃ နည်း။-ဝိညာဉ်သာလျှင်အသက်ရှင်စေ၏။ကိုယ်
ကာသည်အလျှင်းမတတ်နိုင်။ ငါပြောသော
စကားသည် ဝိညာဉ်ဖြစ်၏။ အသက်လည်းဖြစ်
၆၄ ၏။-သို့သော်လည်း၊သင်တို့တွင်မယုံကြည်သော
၆၅ သူအချို့ရှိ၏။-ထိုကြောင့်၊ငါ၏ခမည်းတော်ထံမှ
အခွင့်ပေးတော်မမူလျှင်၊ အဘယ်သူမျှ ငါ့ထံသို့
မလာနိုင်ဟု၊အထက်က ငါဆိုခဲ့ပြီဟုမိန့်တော်မူ
၏။ထိုသို့မိန့်တော်မူသည်အကြောင်းဟူမူကား၊
အဘယ်သူ မယုံကြည်သည်ကိုငှင်၊ အဘယ်သူ
သည် ကိုယ်တော် ကို အပ် နှံ မည် ကိုငှင်၊ ယေရှု
သည်အစအဦး၌သိတော်မူ၏။
၆၆ ထိုအခါ မှစ၍ တပည့်တော် အများ တို့ သည်
ကိုယ် တော် နှင့် မပေါင်း၊ နောက်သို့ ဆုတ် သွား ကြ
၆၇ ၏။-ထိုကြောင့်၊ယေရှုသည်တကျိပ်နှစ်ပါးသော
သူတို့အား၊ သင်တို့သည်လည်း ထွက်သွားခြင်း
၆၈ ငှါအလိုရှိကြသလောဟု မေးတော်မူလျှင်၊-ရှိမုန်
ပေတရုက၊သခင်၊ အကျွန်ုပ်တို့သည်အဘယ်သူ
ထံသို့ သွားရပါမည်နည်း။ ထာဝရအသက်နှင့်
ရှည်သောစကားသည်ကိုယ်တော်၌ရှိသည်ပါ၏။-

၆၉ ကိုယ်တော်သည်ခရစ်တော်တည်းဟူသော၊ အ
သက်ရှင်တော်မူသောဘုရားသခင်၏ သားတော်
ဖြစ်တော်မူသည်ကိုအကျွန်ုပ်တို့ ယုံကြည်သိမှတ်
၇၀ ကြပါသည်ဟုလျှောက်လေ၏၊-ယေရှုကလည်း၊
တကျိပ်နှစ်ပါး၊သောသင်တို့ကို ငါ ရွေးကောက်
သည်မဟုတ်လော၊ သို့သော်လည်း၊ သင်တို့တွင်
၇၁ ရန်သူတယောက်ပါသည်ဟုမိန့်တော်မူ၏။- ထို
သို့မိန့်တော်မူသော်၊တကျိပ်နှစ်ပါး၊အဝင်ဖြစ်၍
ကိုယ်တော်ကို အပ်နှံမည်သူ၊ ရှိမုန်၏သား ယု
ရှကာရုတ်ကိုဆိုလိုသတည်း။

၇

၁ ထိုနောက်မှ ယေရှုသည်ဂါလိလဲပြည်၌လှည့်
လည်တော်မူ၏၊ ယုဒလူတို့သည် ကိုယ်တော်ကို
သတ်ဖို့သောငှါရှာကြံသောကြောင့်၊ယုဒပြည်
၌လှည့်လည်ခြင်းငှါအလိုတော်မရှိ။
၂-၃ ယုဒလူတို့၏သင်္ကေနေ့ပွဲခံခါနီး၊တွင်၊-ညီတော်
တို့က၊ သင်ပြုသော အမှုတို့ကို တပည့် များ၊တို့
သည်မြင်စေခြင်းငှါ၊ ဤအရပ်မှထွက်၍ယုဒပြည်
၄ သို့ကြွပါ။- ကျော်စောခြင်းကို အလို ရှိသောသူ
မည်သည်ကား၊ မထင်ရှား၊သော အားဖြင့် အ
ထယ်အမှုကိုမျှမပြုတတ်။ဤအမှုတို့ကိုသင်သည်
ပြုလျှင်၊ ဤလောက၌ကိုယ်ကိုယ်ကိုထင်ရှား၊စွာ ပြပါ
၅ ဟု၊-မယုံကြည်သောကြောင့်ယေရှုအား၊ဆိုကြ
၆ ၏။- ယေရှုကလည်း၊ ငါ အချိန် မရောက်သေး။
သင်တို့ တို့ခပ် သိမ်းသော အချိန်သင့်လျှက်ရှိ၏း-
၇ လောကီသား၊တို့သည်သင်တို့ကိုမမုန်း၊နိုင်း၊ငါကို
မုန်း၊ကြ၏၊ အကြောင်း၊မူကား၊ ငါသည်သူတို့၏
၈ အကျင့်ဆိုး၊ညစ်ကြောင်း၊ကို သက်သေခံ၏။- ထို
၉ ပွဲသို့သင်တို့သွား၊ကြလော့။- ငါမသွား၊သေး၊ငါ
အချိန်မပြည့်စုံသေး၊ဟု မိန့်တော်မူပြီး၊လျှင်၊ ဂါ
လိလဲပြည်မှာနေတော်မူ၏။
၁၀ ညီတော်တို့သွား၊ပြီး၊မှ ကိုယ်တော်သည် ထိုပွဲ
၁၁ သို့မထင်မရှား၊ကြွတော်မူ၏။- ထိုပွဲ၌ ယုဒလူတို့
က၊ယေရှုသည်အဘယ်မှာရှိသနည်း၊ဟုမေးမြန်း၊
၁၂ ရှာဖွေကြ၏။-လူအစုအဝေး၊တို့သည်ကိုယ်တော်
ကို အကြောင်း၊ပြု၍ ဗုတ်ဗုတ်သဲသဲ ဖြစ်ကြ၏၊
အချို့တို့က၊ သူသည်သူတော်ကောင်း၊ဖြစ်သည်
ဟူ၍၎င်း၊ တချို့တို့က၊ သူတော်ကောင်း၊မဟုတ်၊
၁၃ လူများ၊ကိုလှည့်ဖြား၊သည်ဟူ၍၎င်းဆိုကြ၏။- သို့
သော်လည်း၊ယုဒလူတို့ကိုကြောက်သောကြောင့်
အဘယ်သူမျှ အတည့်အလင်း၊မပြောစုံကြ။
၁၄ ထိုပွဲကိုခံစဉ်တွင်၊ယေရှုသည်ဗိမာန်တော်

၁၅ ထို တက် ၍ ဆုံးမြွတ်၊ ပေး တော် မူ၏။- ယုဒ
လူတို့သည်အံ့ဩ၍၊ ဤသူသည် စာမသင်ဘဲ
လျက်၊အဘယ်သို့တတ်ဘိသနည်း၊ဟု ဆိုကြ၏။-
၁၆ ယေရှုကလည်း၊ ငါဟောသောဒေသနာသည်ငါ
၏ဒေသနာမဟုတ်၊ငါ့ကိုစေလွှတ်တော်မူသောသူ
၁၇ ၏ဒေသနာဖြစ်၏။- ထိုသူ၏ အလိုတော်သို့လိုက်
ချင်သော သူ မည်သည်ကား၊ ဤ ဒေသနာ သည်
ဘုရား သခင်၏ ဒေသနာတော် ဖြစ်သလော၊ ငါ
သည်ကိုယ်အလိုအလျောက်ဟောပြော သလော
၁၈ ဟုမှိုင်း၊ခြား၍ သိ လိမ့် မည်။- ကိုယ် အလို အ
လျောက် ဟောပြောသော သူသည် မိမိဘုန်းအ
သရေကိုရှာတတ်၏။မိမိကိုစေလွှတ်တော်မူသော
သူ၏ ဘုန်း၊ အသရေကို ရှာသော သူမူကား၊ ဖြောင့်
၁၉ မတ်သောသူဖြစ်၏၊ထိုသူ၌မုသာမရှိ။-မော
ရှေသည်ပညတ်တရား၊ကိုသင်တို့အား၊ ပေး၊သည်
မဟုတ်လော၊ ထိုတရား၊ကို သင်တို့တွင် တစုံတ
ယောက်မျှမကျင့်၊ငါ့ကိုသတ်ဖို့သောငှါအဘယ်
၂၀ ကြောင့်ရှာကြံကြသနည်း၊ဟုမိန့်တော်မူ၏။- လူ
အစုအဝေး၊ကလည်း၊သင်သည်နတ်ဆိုး၊စွဲသော
သူဖြစ်၏၊ သင့်ကို သတ်ဖို့သောငှါ အဘယ်သူ
၂၁ ရှာကြံသနည်း၊ဟုဆိုကြ၏။-ယေရှုကလည်း၊ငါ
ပြုသောအမှုတခုကိုသင်တို့ရှိသမျှသည်အံ့ဩ
၂၂ ခြင်းရှိကြ၏။- မောရှေသည်အရေဖျား၊လှီး၊ခြင်း
တရား၊ကိုသင်တို့အား၊ပေး၏၊ထိုသို့ဆိုသော်မော
ရှေမှအစပြုခံရသည်ဟုမဆိုထို၊ ဘိုး၊ဘေး၊များ
မှဆက်ခံရသတည်း၊ထိုကြောင့်ဥပုသ်နေ့၌သင်
၂၃ တို့သည်အရေဖျား၊လှီး၊ခြင်း၊ကိုပေးကြ၏။- မော
ရှေ၏တရား၊မပျက်စေခြင်းငှါလူသည်ဥပုသ်နေ့၌
အရေဖျား၊လှီး၊ခြင်း၊ကိုခံရလျှင်၊ငါသည်ဥပုသ်နေ့
၌ လူတကိုယ်လုံး၊ကို ကျန်း၊မာစေ သောကြောင့်၊
သင်တို့သည် ငါ့ကို အမျက် ထွက် ရာ သ လော-
၂၄ မျက်နှာကို သာကြည့်၍ မစီရင်ကြနှင့်၊ တရား
သဖြင့်စီရင်ကြလော့ဟုမိန့်တော်မူ၏။
၂၅ ထိုအခါ ယေရုရှလင်မြို့သား၊ အချို့ကလည်း၊
ဤသူကို သတ် ဖို့ သောငှါ ရှာကြံ သည် မဟုတ်
၂၆ လော၊- ကြည့်ပါ၊လူသည် ထင် ရှား၊စွာ ဟော
ပြော၍အဘယ်ဖြစ်ဟု၊ခြင်း၊ကိုမျှမပြုကြပါတ
ကား၊ဤသူသည်ခရစ်တော်ဖြစ်ကြောင်း၊ကိုမင်း၊
၂၇ များ၊တို့သည် အမှန် သိကြ သလော၊- သို့သော်
လည်း၊ဤသူသည်အဘယ်ကဖြစ်သည်ကိုငါတို့
သိကြ၏၊ ခရစ်တော်သည်ကြွလာတော်မူသော
အခါ အဘယ်က ဖြစ်တော်မူသည်ကို အဘယ်

၂၈ လူမျှမသိရဟု ဆိုကြ၏။ ယေရှုကလည်း၊ သင်
တို့သည် ငါ့ကိုသိကြ၏။ ငါသည် အဘယ်ကဖြစ်
သည်ကိုလည်းသိကြ၏။ သို့သော်လည်း၊ ငါသည်
ကိုယ်အလိုအလျောက်လာသည်မဟုတ်။ ငါ့ကို
စေလွှတ်တော်မူသောသူသည် သစ္စာနှင့် ပြည့်စုံ
၂၉ တော်မူ၏။ ထိုသူကိုသင်တို့မသိကြ။ ငါမူကား
သိ၏။ အကြောင်းမူကား၊ ထိုသူ၏ အထံတော်မှ
ငါလာ၏။ သူသည်လည်း၊ ငါ့ကိုစေလွှတ်တော်မူ၏
ဟု၊ မိတ်မှန်တော်၌ဆုံးမဩဝါဒပေးတော်မူစဉ်
၃၀ တွင်၊ ကြွေးကြော်၍ မိန့်တော်မူလျှင်၊ ကိုယ်
တော်ကို ဖမ်း၊ ဆီး၊ ခြင်း၊ အခွင့်ကို ရှာကြ၏။ သို့
သော်လည်း၊ ကိုယ်တော်၏ အချိန်မရောက်
သေးသောကြောင့် အဘယ်သူမျှ မဖမ်း၊ မဆီး
၃၁ ကြ။ လူအစုအဝေးထဲ၌ ပါဝင်သော လူအများတို့
သည်ယုံကြည်သည်ဖြစ်၍၊ ခရစ်တော်သည်ကြွ
လာတော်မူသောအခါ၊ ဤသူပြသောနိမိတ်လက္ခ
ဏာထက်သာ၍များသော နိမိတ်လက္ခဏာတို့
ကိုပြတော်မူမည်လောဟု ဆိုကြ၏။
၃၂ ထိုသို့ လူများ ရုတ်ရုတ်သဲသဲ ဖြစ်ကြသည်
ကိုဖာရိရှဲတို့သည်ကြားလျှင်၊ ယဇ်ပုရောဟိတ်
အကြီးတို့နှင့် တိုင်ပင်ပြီးမှ ကိုယ်တော်ကို ဖမ်း
ဆီးစေခြင်းငှါမင်းလုလင်တို့ကိုစေလွှတ်ကြ၏။
၃၃ ယေရှုကလည်း၊ ငါသည်သင်တို့နှင့်အတူ ခဏ
သာနေပြီးလျှင်၊ ငါ့ကို စေလွှတ်တော်မူသော သူ
ထံသို့သွားရမည်။ သင်တို့သည်ငါ့ကိုရှာကြလိမ့်
၃၄ မည်။ ရှာသော်လည်းမတွေ့ရကြ။ ငါရှိရာအရပ်
သို့သင်တို့ မရောက်နိုင်ကြဟု မိန့်တော်မူလျှင်၊
၃၅ ယုဒလူတို့က၊ ငါတို့မတွေ့စေခြင်းငှါ၊ သူသည်အ
ဘယ် အရပ်သို့ သွားလိမ့်မည်နည်း။ ဟေလသ
လူတို့တွင်၊ အရပ်ရပ်သို့ကွဲပြားလျက်နေသောသူ
တို့ရှိရာသို့သွား၍၊ ဟေလသလူတို့အား တရား
၃၆ ဟောလိမ့်မည်လော။ သင်တို့သည်ငါ့ကိုရှာကြ
လိမ့်မည်။ ရှာသော်လည်းမတွေ့ရကြ။ ငါရှိရာအ
ရပ်သို့ သင်တို့ မရောက်နိုင်ကြဟူသော စကား
သည် အဘယ်သို့ဆိုလိုသနည်းဟု၊ အချင်းချင်း
ဆိုကြ၏။
၃၇ ထိုပွဲကို ခံ၍ နောက်ဆုံး ဖြစ်သော နေ့မြတ်၌
ယေရှု သည် ရပ်၍ ကြွေးကြော်တော်မူ သည်
ကား၊ ရေငတ် သော သူရှိလျှင်၊ ငါ့ထံသို့ လာ၍
၃၈ သောက်လော့။ ငါ့ကို ယုံကြည်သော သူသည်
ကျမ်းစာလာသည်အတိုင်း၊ အသက်ရေထွက်ရာ
၃၉ စမ်းရေတွင်းဖြစ်လိမ့်မည်ဟုမိန့်တော်မူ၏။ ထို
သို့မိန့်တော်မူသော်၊ ယုံကြည်သောသူတို့သည်ခံ
ရလတံ့သော ဝိညာဉ်တော်ကို ရည်မှတ်၍ မိန့်
တော်မူ၏။ ယေရှုသည် ဘုန်းပွင့်တော် မမူသေး
သောကြောင့်သန့်ရှင်းသောဝိညာဉ်တော်ကိုပေး
၄၀ တော်မမူသေး။ စကားတော်ကိုကြားသောသူအ
များတို့က၊ ဤသူသည် ထင်ရှားသောပရောဖက်
၄၁ အမှန် ဖြစ်သည်ဟု ဆိုကြ၏။ အချို့ကလည်း၊
ဤသူသည် ခရစ်တော်ဖြစ်သည်ဟုဆိုကြ၏။ အ
ချို့ကလည်း၊ ခရစ်တော်သည် ဂါလိလဲပြည်ကလာ
၄၂ ဖြစ်ရသလော။ ခရစ်တော်သည် ဒါဝိဒ် အမျိုး၊
ဒါဝိဒ် နေရာရွာ၊ ဗက်လင်ရွာသား ဖြစ်ရမည်
ဟု၊ ကျမ်းစာ ထားသည် မဟုတ်သလော ဟု ဆိုကြ
၄၃ ၏။ ထိုသို့လူများတို့သည် ကွဲပြားကြသည်ဖြစ်
၍၊ အချို့တို့သည်ကိုယ်တော်ကိုဖမ်းဆီးခြင်းငှါ
၄၄ အလို၌ကြ၏။ သို့သော်လည်း အဘယ်သူမျှ
ဖမ်းမဆီးကြ။
၄၅ ထိုအခါမင်းလုလင်တို့သည် ယဇ်ပုရောဟိတ်အ
ကြီး၊ ဖာရိရှဲတို့ထံသို့ပြန်၍၊ ထိုမင်းတို့က၊ အဘယ်
ကြောင့်သူကိုမဆောင်ခဲ့ကြသနည်းဟု မေး မြန်း
၄၆ လျှင်၊ မင်းလုလင်တို့က၊ ထိုသူဟောပြောသကဲ့
သို့အဘယ်သူမျှ မဟောဖူးပါဟု လျှောက်ကြ
၄၇ ၏။ ဖာရိရှဲတို့ကလည်း၊ သင်တို့ကိုပင်လှည့်ဖြား
၄၈ ပြီလော။ မင်းများ၊ ဖာရိရှဲ များ တို့တွင် သူကို
ယုံကြည်သောသူတစုံတယောက်မျှရှိသလော။
၄၉ တရားကိုမသိသောဤလူများတို့သည် ကျိန်ခြင်း
၅၀ ကိုခံရသောသူဖြစ်သည်ဟု ဆိုကြ၏။ အထက်
ကညဉ့်အခါ၌ ထံတော်သို့လာသောသူတည်း
ဟူသော၊ ထိုမင်းများအဝင်ဖြစ်သောနိကောဒင်
၅၁ ကလည်း၊ ငါတို့တရားသည်လူကိုမစစ်၊ သူအမှု
ကိုမသိမှီကပင်ရှေ့မထွက်ဆုံးဖြတ်တတ်သလော
၅၂ ဟုဆိုလျှင်၊ သူတို့က၊ သင်သည်လည်း၊ ဂါလိလဲ
ပြည်သား ဖြစ် သလော။ စစ်ဦး လော့။ ဂါလိလဲ
ပြည်၌အဘယ်ပရောဖက်မျှ မပေါ်မထွန်းသည်
၅၃ ကိုမှတ်လော့ဟု ဆိုကြပြီးမှ၊ ထိုသူအပေါင်းတို့
သည်မိမိတို့အိမ်သို့သွားကြ၏။

၈

၁ ယေရှုသည်သံလွင်တောင်သို့ကြွတော်
၂ မူ၏။ နံနက်စောစောမိတ်မှန်တော်သို့တဖန်ကြွ
တော်မူ၍၊ လူအပေါင်းတို့သည် အထံတော်သို့
လာကြ၏။ ထိုအခါ ထိုင်တော်မူ၍ ဆုံးမဩဝါဒ
၃ ပေးစဉ်တွင်၊ မှားယွင်းခြင်းအမှုကို ပြုလျက်
နေသော မိန်းမ တယောက်ကို တွေ့လျှင်၊ ကျမ်းပြု

ဆရာတို့နှင့်ဖာရိရှဲတို့သည်ခေါ်ခဲ့၍ အလယ်၌
၄ ထားပြီးမှ၊- အရှင်ဘုရား၊ ဤမိန်းမသည်မှားယွင်း
၅ ခြင်းအမှုကိုပြုစဉ်တွင်ပင် တွေ့မိပါသည်။- ထို
ထိုသောမိန်းမကိုကျောက်ခဲနှင့်ပစ်ရမည်ဟု၊ မော
ရှေသည်အကျွန်ုပ်တို့အားပညတ်တရား၌ မိန့်
တော်မူပါပြီ။ သို့ရာတွင်၊ ကိုယ်တော်သည် အ
ဘယ်သို့ မိန့်တော်မူမည်နည်းဟုလျှောက်ကြ၏။-
၆ ထိုသို့ လျှောက်ကြသော်၊ ကိုယ်တော်၌ အပြစ်
တင်ခွင့်ရှိခြင်းငှါစုံစမ်းနှောင့်ရှက်သောအား
ဖြင့် လျှောက်ကြ၏။ ယေရှုသည် အောက်သို့ငုံ့
လျှက်လက်ညှိုးတော်နှင့် မြေ၌ ရေးသား၍ နေ
၇ တော်မူ၏။- ထိုသူတို့သည် အထပ်ထပ်မေး
လျှောက်ကြသောအခါကိုယ်ကို ဖြန့်တော်မူ၍၊
သင်တို့တွင်အပြစ်ကင်းသောသူသည် ရှေ့ဦးစွာ
၈ ကျောက်ခဲနှင့်ပစ်စေဟုမိန့်တော်မူပြီးမှ၊-တဖန်
၉ အောက်သို့ငုံ့၍မြေ၌ရေးသားတော်မူပြန်၏။-ထို
သူတို့သည်ကြားရလျှင်၊မိမိတို့စိတ်နှစ်လုံးသည်
မိမိတို့အပြစ်ကိုဖော်ပြသဖြင့် အသက်ကြီးသော
သူမှစ၍ အငယ်ဆုံးသော သူတိုင်အောင်၊ တ
ယောက် နောက် တယောက် ထွက်သွားကြ၏။
ယေရှုသည် တယောက်တည်းကျန်ရစ်တော်မူ
၁၀ ၍မိန်းမသည်အလယ်၌ရပ်နေ၏။- ထိုအခါယေရှု
သည်ကိုယ်ကိုဖြန့်တော်မူပြန်၍၊ ထိုမိန်းမမှတပါး
အဘယ်သူကိုမျှမမြင်လျှင်၊ အချင်းမိန်းမ၊ သင့်ကို
အပြစ်တင်သောသူတို့သည် အဘယ်မှာရှိကြသ
နည်း။ သင်၏အမှုကိုအဘယ်သူမျှ မစီရင်သော
၁၁ ဟုမေးတော်မူ၏။- ထိုမိန်းမကသည်း၊ အဘယ်သူ
မျှမစီရင်ပါသခင်ဟုလျှောက်၏။ငါသည်လည်း
သင်၏အမှုကိုမစီရင်၊ သွားလော့။နောက်တဖန်
ရစ်မှုကိုမပြုနှင့်ဟုမိန့်တော်မူ၏။
၁၂ တဖန်တုံယေရှုက၊ ငါသည် ဤလောက၏ အ
လင်းဖြစ်၏။ ငါနောက်သို့ လိုက်သောသူ သည်
မှောင်မိုက်၌မသွား၊မထား၊အသက်၏အလင်းကို
၁၃ ရလိမ့်မည်ဟုမိန့်တော်မူ၏။-ဖာရိရှဲတို့ကလည်း၊
သင်သည် ကိုယ်အကြောင်းကို သက်သေခံ၏။
၁၄ သင်၏ သက်သေမတည်ဟုဆိုကြ၏။- ယေရှုက
လည်း၊ ငါသည်ကိုယ်အကြောင်းကို သက်သေ
ခံသော်လည်း၊သက်သေတည်၏။ အကြောင်း
မူကား၊ ငါသည် အဘယ်အရပ်က လာသည်ကို
၎င်း၊အဘယ်အရပ်သို့သွားသည်ကို၎င်း ငါသိ၏။
၁၅ သင်တို့မူကား မသိကြ။- သင်တို့သည် ဇာတိ
ပကတိအတိုင်း စီရင်တတ်ကြ၏။ ငါမူကား အ
၁၆ ဘယ်သူကိုမျှမစီရင်။-ငါသည်စီရင်သော်လည်း၊
ငါ၏စီရင်ခြင်းသည်တည်၏။အကြောင်းမူကား
ငါသည် တယောက်တည်း နေသည်မဟုတ်။ ငါ
ကို စေလွှတ် တော်မူသော ခမည်းတော်သည် ငါ
၁၇ သက်၌ နေတော်မူ၏။- သက်သေခံ နှစ်ဦး ထို့၏
စကားသည် တည်ရ၏ဟု၊ သင်တို့ပညတ်ကျမ်း
၁၈ စာ၌ထား၏။-ငါသည်ကိုယ်အကြောင်းကိုသက်
သေခံသောသူဖြစ်၏။ ငါ့ကိုစေလွှတ်တော်မူသော
ခမည်းတော်သည်လည်း၊ငါ့အကြောင်းကိုသက်
၁၉ သေခံတော်မူသည်ဟုမိန့်တော်မူ၏။-ထိုသူတို့က
လည်း၊ သင်၏ခမည်းတော်သည် အဘယ်မှာရှိ
သနည်းဟု မေးကြ၏။ ယေရှုကလည်း၊ သင်တို့
သည်ငါ့ကိုမသိကြ။ငါ့ခမည်းတော်ကိုလည်းမသိ
ကြ။ ငါ့ကိုသိလျှင်၊ ငါ့ခမည်းတော်ကိုလည်း သိ
၂၀ ကြလိမ့်မည်ဟု မိန့် တော်မူ၏။- ဗိမာန်တော်၌
ဆုမ္ပလ္လာ၀ါဒပေးတော်မူစဉ်၊ ဤစကားတော်ကို
ဘဏ္ဍာတိုက်မှာ မိန့်မြွက်တော်မူ၏။ ကိုယ်တော်
၏ အချိန် မ ရောက် သေး သော ကြောင့် အ
ဘယ်သူမျှကိုယ်တော်ကိုမဖမ်းဆီးကြ။
၂၁ တဖန်ယေရှုက၊ငါသည်သွားရမည်။ သင်တို့
သည်ငါ့ကိုရှာကြလိမ့်မည်၊ ကိုယ်အပြစ်၌သေပြီး
သေကြလိမ့်မည်။ ငါသွားရာအရပ်သို့ သင်တို့မ
၂၂ ရောက်နိုင်ကြဟု မိန့် တော်မူ၏။- ယုဒလူတို့က
လည်း၊ ငါသွားရာအရပ်သို့ သင်တို့မရောက်နိုင်
ကြဟုသူသည် ဆိုသော်၊ ကိုယ်အသက်ကိုသတ်
၂၃ မည်လောဟုဆိုကြ၏။ ယေရှုကလည်း၊သင်တို့
သည်အောက်သားဖြစ်ကြ၏။ငါမူကား၊အထက်
သားဖြစ်၏။ သင်တို့သည် လောကီသားဖြစ်ကြ
၂၄ ၏။ငါမူကား၊လောကီသားမဟုတ်။-ထိုကြောင့်၊
သင်တို့သည် ကိုယ်အပြစ်၌ သေကြလိမ့်မည်ဟု
ငါဆို၏။ ငါသည် ဤမည်သော သူဖြစ်သည်ကို
သင်တို့သည်မယုံလျှင်၊ ကိုယ်အပြစ်၌ သေကြ
၂၅ လိမ့်မည်ဟု မိန့်တော်မူ၏။- ထိုသူတို့ကလည်း၊
သင်သည် အဘယ်သူနည်းဟုမေးလျှင်၊ ယေရှု
က၊ငါသည်သင်တို့အား အစည်ပြောဆိုသည်အ
၂၆ တိုင်း၊ငါဖြစ်၏။- သင်တို့အမှု၌ ငါပြောဆိုစီရင်
စရာများစွာရှိ၏။ သို့သော်လည်း၊ ငါ့ကိုစေလွှတ်
တော်မူသောသူသည်သစ္စာနှင့် ပြည့်စုံတော်မူ၏။
သူ၏အထံတော်၌ ငါကြားသမျှကိုသာ ဤလော
၂၇ က၌ငါဟောပြောသည်ဟုမိန့်တော်မူ၏။-ခမည်း
တော်ကိုရည်မှတ်၍မိန့်တော်မူသည်ကိုထိုသူတို့
၂၈ သည်မရိပ်မိကြ။- ထိုကြောင့်ယေရှုက၊ သင်တို့

သည့် ထု ထား ကို မြှောက်ထား သော အခါ၊ ငါ
သည် ဤမည်သော သူဖြစ်သည်ကိုရင်၊ ငါသည်
ကိုယ် အလိုအလျောက် အထယ်အမှုကိုမျှ မပြု
ဘဲ၊ ခမည်းတော်သည် ငါအား နည်းပေးတော်မူ
သည်အတိုင်း၊ ငါဟောပြောသည်ကိုင့်၊ သင်တို့
၂၉ သည် သိ ကြလိမ့်မည်။- ငါ့ကို စေလွှတ် တော်မူ
သောသူသည် ငါနှင့်အတူ ရှိတော်မူ၏၊ ငါ့ကို တ
ကိုယ်တည်းနေစေခြင်းငှါ ခမည်းတော်သည်စွန့်
ပစ်တော်မမူ၊ အကြောင်းမူကား၊ နှစ်သက်တော်
မူသောအမှုကို အစဉ်မပြတ် ငါပြုသည်ဟု မိန့်
၃၀ တော်မူ၏။- ထိုစကားတော်ကို မိန့်တော်မူစဉ်၊
လူများထိုသည်ယုံကြည်ခြင်းသို့ရောက်ကြ၏။
၃၁ ထိုအခါယေရှုက၊ သင်တို့သည်ငါ၏ဒေသနာ
၃၂ ၌တည်လျှင်၊ တပည့်အမှန်ဖြစ်ကြ၏။- သစ္စာ
တရား ကိုလည်း သိကြသဖြင့်၊ ထို တရားသည်
သင်တို့ကို လွှတ် လိမ့် မည်ဟု၊ ယုံ ကြည် သော
၃၃ ယုဒ လူတို့အား မိန့် တော် မူ၏။- ယုဒ လူ တို့ က
လည်း၊ ငါတို့သည်အာဗြဟံအမျိုးဖြစ်ကြ၏၊ အ
ထယ်သူထံ၌တရံတခါမျှကျွန်မခံကြ၊ လွှတ်လိမ့်
မည်ဟူ၍သင်သည်အဘယ်သို့ပြောဆိုသနည်း
ဟုငြင်းခြန်းကြ၏၊ ယေရှုကလည်း၊ ငါအမှန်အ
၃၄ ကန်ဆိုသည်ကား၊- ဒုစရိုက်ကိုပြုသမျှသောသူ
၃၅ ထိုသည် ဒုစရိုက်၏ကျွန်ဖြစ်ကြ၏။- ကျွန်သည်
ကား၊ အိမ်၌အစဉ်အမြဲနေသည်မဟုတ်၊ သား
၃၆ မူကား၊ အစဉ်အမြဲနေ၏။-ထိုကြောင့်၊ သားသည်
သင်တို့ကိုလွှတ်လျှင်၊ သင်တို့သည် ကေန်အမှန်
၃၇ လွှတ်ကြလိမ့်မည်။- သင်တို့သည် အာဗြဟံအ
မျိုးဖြစ်ကြသည်ကိုငါသိ၏၊ သို့သော်လည်း၊ ငါ
၏ဒေသနာသည်သင်တို့၌တည်နေရာကိုမရသော
ကြောင့်၊ သင်တို့သည် ငါ့ကို သတ်အံ့သောငှါရှာ
၃၈ ကြံကြ၏။-ငါသည်ခမည်းတော်ထံ၌မြင်ခဲ့ပြီး
သည်အတိုင်းဟောပြော၏၊ သင်တို့သည်သင်တို့
၏အဖထံ၌ မြင်ခဲ့ပြီးသည်အတိုင်းပြုကြ၏ဟုမိန့်
၃၉ တော်မူ၏။-ထိုသူတို့ကလည်း၊ အာဗြဟံသည်ငါ
တို့အဖဖြစ်၏ဟုဆိုကြ၏၊ ယေရှုကလည်း၊ သင်
တို့သည် အာဗြဟံ၏ သားမှန်လျှင်၊ အာဗြဟံ၏
၄၀ အကျင့်ကို ကျင့်ကြလိမ့်မည်။- ဘုရားသခင်အ
ထံတော်၌ ကြားရသောသစ္စာတရားကို သင်တို့
အား ဟောပြော သော သူတည်း ဟူသော ငါ့ကို
သတ်အံ့သောငှါ၊ သင်တို့သည်ယခုရှာကြံကြ၏၊
အာဗြဟံသည် ထိုနည်းတူ ကျင့်သည် မဟုတ်။-
၄၁ သင်တို့သည်သင်တို့အဖ၏ အကျင့်ကိုကျင့်ကြ၏

ဟုမိန့်တော်မူ၏၊ ထိုသူတို့ကလည်း၊ ငါတို့သည်
မျှောက်မထားသောအမျိုးမဟုတ်၊ ဘုရားသခင်
တည်းတူသောငါတို့အဖတပါးတည်းရှိတော်မူ
၄၂ သည်ဟုဆိုကြ၏။-ယေရှုကလည်း၊ ဘုရားသခင်
သည်သင်တို့အဖမှန်လျှင်၊ သင်တို့သည်ငါ့ကိုချစ်
ကြလိမ့်မည်၊ အကြောင်းမူကား၊ ငါသည်ဘုရား
သခင်အထံတော်မှထွက်ကြွရောက်လာ၏၊ ကိုယ်
အလိုအလျောက် လာသည်မဟုတ်၊ ဘုရားသခင်
၄၃ သည်ငါ့ကိုစေလွှတ်တော်မူ၏။- အဘယ်ကြောင့်
ငါ့စကားကို နားမလည်ကြ သနည်း။ ငါ၏ဒေသ
နာကို နားမခံ မယူနိုင် သောကြောင့်သာ သင်တို့
၄၄ သည်စကားကို နားမလည်ကြ။- သင်တို့သည်
သင်တို့၏ အဖ တည်းဟူသော မာရ်နတ်မှ ဆင်း
သက်ကြ၏၊ သင်တို့အဖ၏အလိုသို့လည်း လိုက်
တတ်ကြ၏၊ မာရ်နတ်သည်ရှေးဦး၌စွာမှစ၍ လူအ
သက်ကို သတ်သောသူဖြစ်၏၊ သူ၌သစ္စာတရား
မရှိသောကြောင့်သစ္စာတရား၌မတည်မနေ၊ လူ
သည် မုသာစကားကိုပြောသောအခါမိမိပကတိ
အတိုင်းပြော၏၊ မုသာစကား၌ ကျွင်လည်သော
၄၅ သူဖြစ်၏၊ မုသာ၏အဖလည်းဖြစ်၏။- ငါသည်
သစ္စာစကားကို ပြော သောကြောင့် သင်တို့ မယုံ
၄၆ ကြ။- ငါ၌ အပြစ် ရှိကြောင်းကို သင်တို့ တွင် အ
ထယ်သူဖော်ပြသနည်း၊ သစ္စာစကားကိုငါပြော
သည်မှန်လျှင်၊ အဘယ်ကြောင့် သင်တို့မယုံကြ
၄၇ သနည်း။-ဘုရားသခင်နှင့်စပ်ဆိုင်သောသူသည်
ဘုရားသခင်၏ စကားတော်ကို နားထောင်တတ်
၏၊ သင်တို့သည်ဘုရားသခင်နှင့်မစပ်ဆိုင်သော
ကြောင့်နားမထောင်ကြဟုမိန့်တော်မူ၏။
၄၈ ယုဒလူတို့ကလည်း၊ သင်သည်ရှမာရိ လူဖြစ်
၏၊ နတ်ဆိုးစွဲသောသူလည်းဖြစ်၏ဟု၊ ငါတို့ပြော
သော စကား၊ သည် လျောက်ပတ် သည် မဟုတ်
၄၉ သောလော ဟုဆိုကြ၏။- ယေရှုကလည်း၊ ငါ သည်
နတ်ဆိုးစွဲသောသူမဟုတ်၊ ခမည်းတော်ကို ရိုး
၅၀ သေလေးမြတ်၏၊ သင်တို့သည် ငါ့ကိုရှုတ်ချကြ၏။- ငါ
သည်ကိုယ်ဘုန်းအသရေကိုမရှာ၊ ငါ၏ဘုန်းအ
သရေကိုရှာ၍ စီရင်တော်မူသောသူရှိသေး၏။-
၅၁ ငါ အမှန်အကန် ဆိုသည်ကား၊ ငါ့ စကားကို နား
ထောင်သောသူသည်သေခြင်းနှင့် အစဉ်အမြဲ ပြတ်
၅၂ ကင်းလွှတ်လိမ့်မည်ဟုမိန့်တော်မူ၏။-ယုဒလူတို့
ကလည်း၊ သင်၌နတ်ဆိုးစွဲသည်ကိုယခုငါတို့သိ
ကြ၏၊ အာဗြဟံမှစ၍ပရောဖက်တို့သည်သေလွန်
ကြပြီ၊ သင်မူကား၊ ငါ့စကားကိုနားထောင်သော

ရှုသည် သေခြင်းနှင့် အစည်းမဖြတ် ကင်းလွတ်
၅၃ လိမ့်မည်ဟုဆိုပါသည်တကား။ ငါတို့အဖ အာ
ဗြဟံထက်သင်သည်သာ၍ကြီးမြတ်သလော။ ထို
သူသည်သေပြီ၊ ပရောဖက်တို့သည်လည်းသေကြပြီ၊ သင်
သည် အဘယ်သို့ သောသူ၏ အရောင်ကိုဆောင်
၅၄ သနည်း၊ ဟုဆိုကြ၏။ ယေရှုကလည်း၊ ငါသည်
ကိုယ်ဂုဏ်ကိုပြလျှင်၊ ငါ့ဂုဏ်သည် အချည်းနှီး
ဖြစ်၏။ ငါ့ခမည်းတော်သည်၊ ငါ့ဂုဏ်ကိုထင်ရှားစေ
တော်မူ၏။ ထိုဘုရားသခင်သည်ငါတို့၏ဘုရားဟု
၅၅ ၍ သင်တို့ခေါ်ဝေါ်ကြ၏။ သို့သော်လည်း
ထိုဘုရားသခင်ကို သင်တို့ မသိကြ။ ငါမူကားသိ
၏။ ငါမသိဟု ငါဆိုလျှင်၊ သင်တို့ကဲ့သို့ မုသာဆုံး
သောသူဖြစ်လိမ့်မည်။ ထိုဘုရားသခင်ကိုငါသိ
၏။ ဘုရားသခင်၏ စကားတော်ကို ငါ နား
၅၆ ထောင်၏။ သင်တို့အဘအာဗြဟံသည်ငါကြွလာ
မည့်အချိန်ကာလကိုမျှော်မြင်ခြင်းငှါ အလွန်အ
လိုရှိ၏။ မြင်ရသောအခါ ဝမ်းမြောက်ခြင်းသို့
၅၇ ရောက်သည်ဟု မိန့်တော်မူ၏။ ယုဒလူတို့က
လည်း၊ သင်၏ အသက်သည် အနှစ်ငါးဆယ်မျှ
မရှိသေးဘဲလျက် သင်သည် အာဗြဟံကို မြင်လေပြီ
၅၈ လောဟုဆိုကြ၏။ ယေရှုကလည်း၊ ငါအမှန်
အကန်ဆိုသည်ကား၊ အာဗြဟံမဖြစ်မှီ ငါဖြစ်၏
၅၉ ဟု မိန့်တော်မူ၏။ ထိုအခါကိုယ်တော်ကို ခဲနှင့်
ပစ်ခြင်းငှါ ကျောက်ခဲတို့ကို ကောက်ယူကြ၏။
ယေရှုသည် တိမ်းရှောင်၍ ထိုသူတို့ အလယ်၌
ရှောက်သွားပြီးလျှင်၊ ဗိမာန်တော်မှ ထွက်ကြွ
တော်မူ၏။

## ၉

၁ လမ်း၌ ကြွသွားတော်မူစဉ်၊ အမိဝမ်းတွင်းက
ပင်မျက်စိကန်းသော သူတယောက်ကို တွေ့မြင်
၂ တော်မူ၏။ တပည့်တော်တို့က၊ အရှင်ဘုရား၊ ဤ
လူသည်အဘယ်သူ၏အပြစ်ကြောင့်မျက်စိကန်း
သနည်း။ ကိုယ်အပြစ်ကြောင့်ကန်းသလော၊ မိ
ဘအပြစ်ကြောင့်ကန်းသလောဟု မေးလျှောက်
၃ ကြ၏။ ယေရှုကလည်း၊ ကိုယ်အပြစ်ကြောင့်မ
ဟုတ်၊ မိဘအပြစ်ကြောင့်လည်းမဟုတ်။ ဘုရား
သခင်၏ အမှုတော် ကို သူ၌ ထင်ရှားစေမည် အ
၄ ကြောင်းတည်း။ ငါ့ကို စေလွှတ်တော်မူသောသူ
၏ အမှုကို နေ့အချိန်ရှိစဉ်တွင် ငါပြုရမည်။ အ
ဘယ်သူမျှ အမှုမပြုနိုင်သော အချိန်တည်း ဟူ
၅ သောညဉ့်အချိန်လာသေး၏။ ငါသည်ဤလော
ကနှင့် ရှိစဉ်တွင် ဤလောက၏ အလင်းဖြစ်၏ဟု

၆ မိန့်တော်မူပြီးလျှင်၊ မြေပေါ်မှာတံတွေးထွေး
နှင့်ရွှံ့လုပ်ပြီးမှ၊ ကန်းသောသူ၏မျက်စိကိုရွှံ့နှင့်
၇ လူး၍၊ သင်သွားလော့၊ ရှိလောင်ရေကန်၌ မျက်
စိကို ဆေးလော့ ဟု မိန့် တော် မူ၏။ ရှိလောင် အ
နက်ကား၊ စေလွှတ်သည်ဟု ဆိုလိုသတည်း။ ထို
သူသည်သွား၍ဆေးပြီးမှ၊ မျက်စိမြင်လျက်ပြန်
လာ၏။
၈ ထိုသူသည် သူတောင်းစားဖြစ်သည်ကို အိမ်နီး
ချင်းမှစ၍မြင်ဘူးသောသူတို့က၊ ဤသူသည်ထိုင်
၍ တောင်းသော သူ ဖြစ်သည် မဟုတ်လော ဟု
၉ ဆိုကြ၏။ သူအချို့က၊ ဟုတ်ကဲ့ဟုဆိုကြ၏။ အ
ချို့ကလည်း၊ ထိုသူနှင့်တူသည်ဟု ဆိုကြ၏။
ထိုသူကလည်း၊ အကျွန်ုပ်သည် ထိုသူပင် ဖြစ်
၁၀ သည်ဟုဆို၏။ သူတို့ကလည်း၊ အဘယ်သို့သင်
၁၁ ၏မျက်စိပွင့်သနည်းဟု မေးမြန်းကြလျှင်၊ ထိုသူ
က၊ ယေရှုအမည်ရှိသောသူတယောက်သည်ရွှံ့
လုပ်၍အကျွန်ုပ်မျက်စိကိုလူးပြီးမှ၊ ရှိလောင်ရေ
ကန်သို့သွား၍ မျက်စိကိုဆေးလော့ဟု ဆိုသည့်
အတိုင်း၊ အကျွန်ုပ်သွား၍ဆေးလျှင် မျက်စိမြင်
၁၂ သည်ဟုဆို၏။ လူများကလည်း၊ ထိုသူသည်အ
ဘယ်မှာရှိသနည်းဟုမေးမြန်းကြလျှင်၊ အကျွန်ုပ်
မသိဟု ဆို၏။
၁၃ လူများသည်လည်း၊ မျက်စိ ကန်းဘူးသောထို
၁၄ လူကိုဖာရိရှဲတို့ထံသို့ ပို့ကြ၏။ ယေရှုသည်ရွှံ့
လုပ်၍ သူ၏ မျက်စိကို ဖွင့်တော်မူသောနေ့သည်
၁၅ ဥပုသ်နေ့ဖြစ်သတည်း။ တဖန်ဖာရိရှဲတို့က၊ အ
ဘယ်သို့ သင်၏ မျက်စိ မြင် သနည်းဟု မေး မြန်း
လျှင်၊ အကျွန်ုပ်မျက်စိ၌ သူသည်ရွှံ့ကို တည့်၍
အကျွန်ုပ် ဆေးလျှင် မျက်စိ မြင် သည်ဟု ဆို၏။
၁၆ ဖာရိရှဲအချို့တို့က၊ ထိုသူသည် ဥပုသ်မစောင့်၊
ဘုရားသခင်စေလွှတ်တော်မူသော သူမဟုတ်ဟု
ဆိုကြ၏။ အချို့တို့က၊ ဆိုးသော သူသည် ဤသို့
သောနိမိတ်လက္ခဏာတို့ကို အဘယ်သို့ပြနိုင်သ
နည်းဟုဆိုကြ၏၊ ထိုသို့အချင်းချင်းမသင့်ကွဲပြား
၁၇ ခြင်းသို့ ရောက်ကြ၏။ တဖန် မျက်စိကန်း ဘူး
သောသူအား၊ သင်၏မျက်စိကိုဖွင့်သောသူသည်
အဘယ်သို့သောသူဖြစ်သနည်းဟုမေးကြလျှင်
ပရောဖက်ဖြစ်သည်ဟု ဆို၏။
၁၈ ထိုသူသည် အထက်က မျက်စိမမြင်၊ နောက်မှ
မျက်စိမြင်သည်ကို ယုဒလူတို့သည် မယုံကြသ
၁၉ ဖြင့်သူ၏မိဘကိုခေါ်၍၊ ဤသူသည် သင်တို့ဆို
သည့်အတိုင်း အမိဝမ်းတွင်းကပင် မျက်စိကန်း

သော၊ သင်တို့၏ သားမှန်သလော၊ အို့မှန်လျှင်၊
အဘယ်သို့ ယခု မျက်စိ မြင်သနည်း။ဟု မေးကြ
၂၀ ၏။- မိဘတို့ကလည်း၊ ဤသူသည်အကျွန်ုပ်တို့၏
သားမှန်သည်ကိုငှင်၊ အမိဝမ်း၊တွင်းကပင်မျက်
၂၁ စိကန်းသည်ကိုငှင်အကျွန်ုပ်တို့သိကြပါ၏။- အ
ဘယ်ကြောင့် ယခု မျက်စိ မြင်သည် ကိုငှင်၊ အ
ဘယ်သူသည်သူ၏မျက်စိကိုဖွင့်သည်ကိုငှင်၊အ
ကျွန်ုပ်တို့ မသိကြပါ၊ သူသည် အသက် အရွယ်
နှင့်ပြည့်စုံပါ၏၊သူကိုမေးကြပါလော့၊ သူသည်
ကိုယ်အကြောင်း၊ကို ကိုယ်တိုင်ပြောပါလိမ့်မည်
၂၂ ဟုပြန်ပြောကြ၏၊- ဤသို့ပြောသည့်အကြောင်း၊
ကား၊ ယေရှုသည်ခရစ်တော်ဖြစ်သည်ဟု ဝန်ခံ
သောသူမည်သည်ကို တရား ဇရပ်မှ နှင်ထုတ်ရ
မည်ဟု၊ယုဒလူတို့သည်တိုင်ပင်စီရင်နှင့်ကြပြီ၊-
၂၃ ထိုကြောင့် မိဘတို့က၊သူသည် အသက်အရွယ်
နှင့်ပြည့်စုံပါ၏၊ သူကိုမေးကြပါလော့ဟု၊ ယုဒ
လူတို့ကိုကြောက်၍ပြောကြ၏။
၂၄ ထိုကြောင့်၊ မျက်စိကန်း၊ဘူးသော သူကိုဒုတိ
ယအကြိမ်ခေါ်၍၊ဘုရားသခင်ကိုချီးမွမ်း၊လော့၊
ထိုသူသည်လူဆိုး၊ဖြစ်ကြောင်း၊ကို ငါတို့သိ၏ဟု
၂၅ ဆိုကြလျှင်၊-လူဆိုး၊ဖြစ်သည်၊မဖြစ်သည်ကိုအ
ကျွန်ုပ်မသိ၊ အကျွန်ုပ်သည် အထက်က မျက်စိ
ကန်း၍၊ ယခုမျက်စိ မြင်သည် အကြောင်း၊တခု
၂၆ ကို အကျွန်ုပ်သိသည်ဟုဆို၏၊- တဖန် ထိုသူတို့
က၊ သူသည်သင်၌အဘယ်သို့ပြုသနည်း၊သင်၏
မျက်စိကို အ ဘယ် သို့ ဖွင့် သ နည်း၊ ဟု မေး ကြ
လျှင်၊အကျွန်ုပ်တခါပြောပြီ၊ သင်တို့နား၊မကြား
၂၇ ကြ။- အဘယ်ကြောင့်တဖန်ကြား၊ချင်သနည်း။
၂၈ သူ့တပည့်ဖြစ်ချင်သလောဟု ဆို၏၊-ထိုသူတို့က
လည်း၊သင်သည်သူ့တပည့်ဖြစ်၏၊ငါတို့မူကား၊
၂၉ မောရှေ၏တပည့်ဖြစ်ကြ၏၊- ဘုရား၊သခင်သည်
မောရှေ၌ ဗျာဒိတ်ထား၊တော်မူကြောင်း၊ကို ငါတို့
သိကြ၏၊ ထိုသူသည်အဘယ်ကဖြစ်သည်ကို မ
၃၀ သိဟုကဲ့ရဲ့၍ပြောဆိုကြလျှင်၊ သူသည်အကျွန်ုပ်
မျက်စိကို ဖွင့်သော်လည်း၊ အဘယ်က ဖြစ်သည့်
ဟု၊သင်တို့မသိကြသည်ကိုထူးဆန်းဖွယ်ရှိ၏၊-
၃၁ ဘုရား၊ သခင် သည် လူ ဆိုး၊ တို့ ၏ စကား၊ ကို နား၊
ထောင်တော်မမူသည်ကို ငါတို့သိကြ၏၊ ဘုရား၊
သခင်ကိုရိုသေလေး၊မြတ်၍ အလိုတော်သို့လိုက်
သောသူဖြစ်လျှင်၊ ထိုသူ၏စကား၊ကို နား၊ထောင်
၃၂ တော်မူ၏၊- အမိ ဝမ်း၊ တွင်း၊ ကပင် မျက်စိကန်း၊
သောသူကို မျက်စိမြင်စေခြင်း၊ငှါ တတ်နိုင်သည်
၃၃ ကိုကမ္ဘာဦး၊မှစ၍မကြား၊စဘူး။- ထိုသူသည်ဘုရား၊
သခင် စေလွှတ်တော်မူသော သူမဟုတ်လျှင်၊ အ
၃၄ ဘယ်အမှုကိုမျှမတတ်နိုင်ဟု ပြောဆို၏၊ ထိုသူ
တို့ကလည်း၊သင်သည်ဒွေး၊စကပင်တကိုယ်လုံး၊
ပြီးရုံစမိုက်အပြစ်၌ဖွားသောသူဖြစ်လျက်နှင့်ငါတို့ကို
ဆုံးမပါသည် ဘကား၊ဟု ပြောဆိုကြပြီးလျှင်၊ ထို
သူကိုတရား၊ဇရပ်မှနှင်ထုတ်ကြ၏၊
၃၅ နှင်ထုတ်သည့် အကြောင်း၊ကို ယေရှု သည်
ကြား၊ပြီး၊မှ ထိုသူကို တွေ့တော်မူလျှင်၊ သင်သည်
ဘုရား၊သခင်၏ သား၊တော်ကို ယုံကြည်သလော
၃၆ ဟုမေး၊တော်မူ၏၊- သခင်၊ အကျွန်ုပ် ယုံကြည်ရ
မည်အကြောင်း၊၊ဘုရား၊သခင်၏သား၊တော်ကား၊
၃၇ အဘယ်သူနည်း၊ဟုမေး၊လျှောက်သော်၊- ယေရှု
က၊သင်သည် ထိုသူကို မြင်ခဲ့ပြီး၊သည့် သာမက၊
သင်နှင့် ယခု စကား၊ ပြောသော သူသည် ဘုရား၊
သခင်၏ သား၊တော် ဖြစ်၏ဟု မိန့် တော်မူလျှင်၊-
၃၈ သခင်၊အကျွန်ုပ်ယုံကြည်ပါ၏ဟုလျှောက်၍ရှိခိုး
၃၉ ခြင်းကို၊ကွယ်လေ၏၊- ထိုအခါယေရှုကလည်း၊
မျက်စိမမြင်သောသူသည်မြင်စေခြင်း၊ငှါနှင့်၊ မြင်
သောသူသည်မျက်စိကန်း၊စေခြင်း၊ငှါငှင်၊ ငါသည်
တရား၊စီရင်၍ ဤလောကသို့ရောက်လာပြီဟုမိန့်
၄၀ တော်မူ၏၊-အထံတော်၌ရှိသောဖာရိရှဲအချို့တို့
သည်ထိုစကား၊ကိုကြား၊လျှင်၊ ငါတို့သည်မျက်စိ
၄၁ ကန်း၊သလော့ဟု မေး၊ကြ၏၊- ယေရှု ကလည်း၊
သင်တို့သည် မျက်စိကန်း၊သည် မှန်လျှင် အပြစ်
မရှိ၊ ငါတို့မျက်စိမြင်သည်ဟု ယခုဆိုကြ၏၊ ထို
ကြောင့်၊သင်တို့၌အပြစ်တည်သည်ဟုမိန့်တော်
မူ၏၊

၁၀

၁ ငါ အမှန်အကန် ဆိုသည်ကား၊ သိုး၊ခြံထဲသို့
တံခါး၊ ဝဖြင့် မဝင်၊ အခြား၊လမ်း၊ဖြင့် ကျော်ဝင်
၂ သောသူသည် သူခိုး၊ထား၊မြပြဖြစ်၏၊- သိုး၊ထိန်း၊မူ
၃ ကား၊တံခါး၊ဝဖြင့်ဝင်တတ်၏၊-ထိုသူအား၊တံခါး၊
စောင့်သည်၊ ဖွင့်တတ်၏၊ သူ၏စကား၊သံကို သိုး၊
တို့သည်နား၊ထောင်တတ်ကြ၏၊သူသည်မိမိသိုး၊
တို့ကို နာမည်ဖြင့် ခေါ်၍ ပြင်သို့ ထုတ် ဆောင်
၄ တတ်၏၊- သိုး၊များ၊ကို ထုတ်သော အခါ သိုး၊တို့
ရှေ့မှာ သွား၊၍၊ သိုး၊များ၊သည် သူ၏စကား၊သံကို
၅ ကျွမ်း၊ သော့ကြောင့် လိုက်တတ် ကြ၏၊- မဆိုင်
သောသူတို့၏စကား၊သံကိုမကျွမ်း၊သော့ကြောင့်၊
မဆိုင် သော သူနောက်သို့ မလိုက်ဘဲ ပြေး၊ တတ်
ကြသည်ဟုမိန့်တော်မူ၏၊

၆ ထိုဥပမာစကားကို ယေရှုဟောတော်မူသည်တွင်၊
ဖာရိသေဲတို့သည် မိန့်တော်မူသောစကားတော်
၇ ၏အနက် အဓိပ္ပာယ်ကို နားမလည်ကြ။ ထို
ကြောင့် တဖန် ယေရှုက၊ ငါ အမှန်တကန် ဆို
သည်ကား၊ ငါသည် သိုးဝင်သော တံခါးဝဖြစ်
၈ ၏။ ရှေ့၌ပေါ်လာသောသူရှိသမျှတို့သည် သူခိုး
ဓားပြဖြစ်ကြ၏။ ထိုသူတို့၏စကားသံကို သိုးတို့
၉ သည်နားမထောင်ကြ။ ငါသည်တံခါးဝဖြစ်၏။
ငါဖြင့်ဝင်သောသူသည်ဘေးနှင့်ကင်းလွတ်လျက်
ထွက်ဝင်၍ ကျက်စားရာကို တွေ့ရလိမ့်မည်။
၁၀ သူခိုးသည်ခိုးခြင်း၊ သတ်ခြင်း၊ ဖျက်ဆီးခြင်းငှါ
သာလာတတ်၏။ ငါမူကား၊ သိုးတို့သည်အသက်
လွတ်ရုံမျှမက အထူးသဖြင့် အသက်နှင့် ပြည့်စုံ
စေခြင်းငှါလာသတည်း။
၁၁ ငါသည်ကောင်းသောသိုးထိန်းထည်းဖြစ်၏။
ကောင်းသော သိုးထိန်းသည် သိုးတို့အဖို့ အလို
၁၂ ငှါ မိမိအသက်ကို စွန့်တတ်၏။ သိုးများကိုပိုင်
သော သိုးထိန်း မဟုတ်၊ သူငှါးဖြစ် သော သူမူ
ကား၊ တောခွေးလာသည်ကိုမြင်လျှင်၊ သိုးတို့ကို
ပြစ်ထား၍ ထွက်ပြေးတတ်၏။ တောခွေးသည်
၁၃ ထည်း သိုးတို့ကိုလုရက်၍ကွဲလွင့်စေ၏။ သူငှါး
သည် သူငှါးဖြစ်၍ သိုးတို့၏အကျိုးကို မမှတ်
၁၄ သောကြောင့်ထွက်ပြေးတတ်၏။ ငါသည်ကောင်း
သောသိုးထိန်းဖြစ်၏။ ခမည်းတော်သည်ငါ့ကိုသိ
တော်မူ၍၊ ငါသည်လည်းခမည်းတော်ကိုသိသ
ကဲ့သို့၊ ငါ၏သိုးတို့ကိုငါသိ၏။ ငါ့သိုးတို့သည်လည်း
၁၅ ငါ့ကိုသိကြ၏။ ငါသည်ကိုယ်အသက်ကိုသိုးတို့
၁၆ အဖို့ အလိုငှါစွန့်၏။ ဤသိုးခြံသို့ မဝင်သောအ
ခြားသိုးတို့ကိုလည်းငါပိုင်သေး၏။ ထိုသိုးတို့ကို
ငါ ဆောင်ခဲ့ရမည်။ သူတို့သည်လည်း ငါ့စကား
သံကိုနားထောင်သဖြင့်၊ သိုးခြံတစု၊ သိုးထိန်းတ
၁၇ ပါးတည်းရှိရလိမ့်မည်။ ငါသည်ကိုယ်အသက်
ကို စွန့်၍ နောက် တဖန် ယူဦးမည် ဖြစ်သော
ကြောင့်၊ ခမည်းတော်သည်ငါ့ကိုချစ်တော်မူ၏။
၁၈ ငါ့အသက်ကို အဘယ်သူမျှ မလုမယူ။ ကိုယ်အ
လို အလျောက် ငါစွန့်၏။ ကိုယ် အသက်ကို စွန့်
ရသောအခွင့်နှင့် နောက်တဖန်ကိုယ်အသက်ကို
ယူပြန်ရသောအခွင့်သည်ငါ၌ရှိ၏။ ထိုအခွင့်ကိုခ
မည်းတော်သည်ပေးတော်မူပြီဟုမိန့်တော်မူ၏။
၁၉ ထိုစကားတော်ကြောင့်ယုဒလူတို့သည်တဖန်ကွဲ
၂၀ ပြားခြင်းရှိကြ၏။ လူများတို့က၊ သူသည်နတ်ဆိုး
စွဲ၍ အရူးဖြစ်၏။ သူ့စကားကို အဘယ်ကြောင့်
၂၁ နားထောင်သနည်းဟုဆိုကြ၏။ အချို့တို့က၊ ထို
စကားသည်နတ်ဆိုးစွဲသောသူ၏စကားမဟုတ်။
နတ်ဆိုးသည် မျက်မိကန်းသော သူတို့ကို မြင်စေ
ခြင်းငှါတတ်နိုင်သလောဟု ဆိုကြ၏။
၂၂ ဆောင်းကာလဖြစ်၍အကဲနိပွဲကိုယေရုရှလင်
၂၃ မြို့၌ခံကြသောအခါ၊ ယေရှုသည်ဗိမာန်တော်
နားမှာရှောလမုန်ကနားပြင်၌ စင်္ကြံသွားတော်မူ
၂၄ စဉ်တွင်၊ ယုဒလူတို့သည်ကိုယ်တော်ကိုဝန်းရံ
၍၊ သင်သည်အဘယ်မျှကာလပတ်လုံးငါတို့ကို
ယုံမှားစေမည်နည်း။ ခရစ်တော်မှန်လျှင်၊ ငါတို့
၂၅ အား ထင်ရှားပြောပါဟုဆိုကြ၏။ ယေရှုကလည်း၊ ငါ
ပြောပြီ။ သင်တို့သည် မယုံကြ။ ငါ့ခမည်းတော်၏
အခွင့်နှင့်ငါပြုသောအမှုတို့သည်ငါ၏သက်သေ
၂၆ ဖြစ်ကြ၏။ သို့သော်လည်း၊ သင်တို့သည်မယုံကြ။
အဘယ်ကြောင့်မယုံကြသနည်းဟူမူကား၊ သင်
တို့သည် ငါ့သိုးတို့ အဝင်မဟုတ်။ အထက်က ငါ
၂၇ ပြောသည်အတိုင်း၊ ငါ့သိုးတို့သည် ငါ့စကားသံ
ကိုနားထောင်၍ ငါ့နောက်သို့လိုက်ကြ၏။ ထိုသိုး
၂၈ တို့ကိုငါသိ၏။ ထာဝရအသက်ကိုထည်းငါပေး
၏။ ထိုသိုးတို့သည်ပျက်စီးခြင်းနှင့်အစဉ်မပြတ်
ကင်းလွတ်ကြလိမ့်မည်။ အဘယ်သူမျှထိုသိုးတို့
၂၉ ကို ငါ့လက်မှ မနှုတ်မယူရ။ ထို သိုးတို့ကို ငါ့အား
အပ်ပေးတော်မူသော ငါ့ခမည်းတော်သည် ခပ်
သိမ်းသော သူတို့ ထက် ကြီးမြတ် တော် မူသည်
ဖြစ်၍၊ အဘယ်သူမျှထိုသိုးတို့ကိုငါ့ခမည်းတော်
၃၀ ၏လက်မှမနှုတ်မယူနိုင်ရာ။ ငါသည် ငါ့ခမည်း
တော် နှင့် တ လုံး တ ဝ တည်း ဖြစ် သည် ဟု မိန့်
တော်မူ၏။
၃၁ ထိုအခါ ယုဒလူတို့သည် ကိုယ်တော်ကို ခဲနှင့်
ပစ်ခြင်းငှါတဖန်ကျောက်ခဲတို့ကိုကောက်ယူကြ
၃၂ ၏။ ယေရှုကလည်း၊ ငါသည်ငါ့ခမည်းတော်၏
အခွင့်နှင့် ကောင်းသော အမှုအရာတို့ကို သင်
တို့အားပြပြီ။ ထိုအမှုတို့တွင်အဘယ်မည်သော
အမှုကြောင့် ငါ့ကိုခဲနှင့် ပစ်ကြမည်နည်းဟုမေး
၃၃ တော်မူလျှင်၊ ယုဒလူတို့က၊ ကောင်းသောအမှု
ကြောင့်ခဲနှင့် ပစ်မည်မဟုတ်။ သင်သည်လူဖြစ်
လျက်ပင်၊ ဘုရားသခင်ဖြစ်ရောင်ဆောင်၍ဘုရား
သခင်ကိုလွန်ကျူးသောစကားကြောင့်ခဲနှင့်ပစ်
၃၄ မည်ဟုဆိုကြ၏။ ယေရှုကလည်း၊ သင်တို့သည်
ဘုရားဖြစ်ကြ၏၊ ငါဆိုသည်ဟု၊ သင်တို့၏ပညတ်
၃၅ ကျမ်းစာ၌လာသည်မဟုတ်လော။ ဘုရားသခင်
၏ စကားတော်ကို ခံရသောသူတို့ကို ဘုရားဟူ

၌ခေါ်ရလျှင်ငှင်၊ ကျမ်းစကားကို မပယ်ရလျှင်
၃၆ ငှင်၊-ခမည်းတော်သည်သန့်ရှင်းစေ၍၊ ဤလော
ကသို့စေလွှတ်တော်မူသောသူကား၊ငါသည်ဘုရား
သခင်၏သားတော်ဖြစ်သည်ဟုဆိုသောကြောင့်၊
သင်သည်ဘုရားသခင်ကိုလွန်ကျူး၍ပြောသည်
၃၇ ဟု၊ထိုသူအားဆိုရာသလော၊-ငါသည်ခမည်း
တော်၏ အမှုတို့ကိုမပြုလျှင် ငါ့ကိုမယုံကြနှင့်၊-
၃၈ ပြုလျှင်ငါ့ကို မယုံသော်လည်း၊ ထိုအမှုတို့ကိုယုံ
ကြလော့၊ ထိုသို့ယုံလျှင် ခမည်းတော်သည်ငါ၌
ရှိတော်မူသည်ကိုငှင်၊ ငါသည်ခမည်းတော်၌ရှိ
သည် ကို ငှင် ယုံ၍ သိမှတ် ကြ လိမ့် မည်ဟု မိန့်
တော်မူ၏၊
၃၉ ထိုအခါကိုယ်တော်ကို ဖမ်းဆီးခြင်းငှါတဖန်
ရှာကြပြန်လျှင်၊ ထို သူတို့ ၏ လက်မှ ထွက် ကြွ
၄၀ တော်မူ၏၊-ယောဟန်သည်နှစ်ခြင်းကိုရှေ့ဦးစွာ
ပေးရာအရပ်၊ ယော်ဒန်မြစ်တဖက်သို့ တဖန်ကြွ
၄၁ ၍ထိုအရပ်၌ နေတော်မူ၏၊- လူများတို့သည်အ
ထံ တော်သို့ ရောက် လာလျှင်၊ ယောဟန် သည်
နိမိတ်လက္ခဏာကိုမပြုသော်လည်း၊ဤသူ၏
အကြောင်းကို ယောဟန် ပြောသမျှ မှန်ပေ၏ဟု
၄၂ ဆိုကြသဖြင့်၊-ထိုအရပ်၌လူများတို့သည်ကိုယ်
တော်ကိုယုံကြည်ကြ၏၊

၁၁

၁ ညီအစ်မ မာရိနှင့် မာသ ထို့နေသော ဗေသနိ
ရွာသား၊ လာဇရုအမည်ရှိသောသူတယောက်
၂ သည် နာလျက် နေ၏၊- နာလျက် နေသော
လာဇရု၏နှစ်မ မာရိကား၊ သခင်ဘုရားကို ဆီ
မွှေးနှင့် လိမ်း၍ခြေတော်ကို မိမိဆံပင်နှင့်သုတ်
၃ သောမာရိဖြစ်သတည်း၊- ညီအစ်မတို့သည်အ
ထံတော်သို့ စေလွှတ်၍၊ သခင်၊ ကိုယ်တော်ချစ်
တော်မူသောသူသည် နာ လျက် နေပါ သည် ဟု
၄ လျှောက်ကြ၏၊- ထိုစကားကိုယေရှုသည်ကြား
တော် မူ လျှင်၊ ထို အ နာ သည် သေ နာ မဟုတ်၊
ဘုရား သခင်၏ ဘုန်းတော်ကို ထင်ရှား စေသော
အနာ ဖြစ်၏၊ ထို အ နာ ကြောင့် ဘုရား သခင်၏
သားတော်သည် ဘုန်းထင်ရှားခြင်း ရှိလိမ့်မည်
၅ ဟုမိန့်တော်မူ၏၊- ယေရှုသည်မာသကိုငှင်၊ သူ
၆ ၏ညီမနှင့်လာဇရုကိုငှင်ချစ်တော်မူ၏၊-လာဇရု
နာသည်ကို ကြား တော်မူလျှင်၊ ကြွတော် မမူဘဲ
ထိုအရပ်၌နှစ်ရက်နေတော်မူ၏၊
၇ ထိုနောက်မှတပည့်တော်တို့အားယုဒပြည်သို့
၈ တဖန် သွားကြကုန်အံ့ဟု မိန့်တော်မူလျှင်၊- တ
ပည့်တော်တို့က၊ အရှင်ဘုရား၊ ယုဒလူတို့သည်
ထရုပင် ကိုယ်တော်ကို ခဲနှင့် ပစ်ခြင်းငှါ ရှာကြ
လျက်ပင်၊ ထိုအရပ်သို့ တဖန်ကြွတော်မူဦးမည်
၉ လောဟုလျှောက်ကြ၏၊-ယေရှုကလည်း၊တနေ့
တွင် တဆယ်နှစ်နာရီ ရှိသည်မဟုတ်လော၊ လူ
သည်နေ့အချိန်၌သွားလာလျှင်၊နေရောင်အလင်း
၁၀ ကိုမြင်ရသောကြောင့်ထိမိ၍မလဲတတ်၊- ညဉ့်
အချိန်၌သွားလာလျှင်မူကား၊အလင်းမရှိသော
၁၁ ကြောင့်ထိမိ၍လဲတတ်၏ဟုမိန့်တော်မူပြီးမှ၊-ငါ
တို့အဆွေ လာဇရု သည် အိပ်ပျော်၏၊ သူကို နိုး
၁၂ ခြင်းအလိုငှါ ငါသွားမည်ဟုမိန့်တော်မူ၏၊- တ
ပည့် တော် တို့ က လည်း၊ သခင်၊ သူသည် အိပ်
ပျော်လျှင် သက်သာရလိမ့်မည်ဟု လျှောက်ကြ
၁၃ ၏၊- ယေရှုသည် လာဇရုသေကြောင်းကို ရည်
မှတ်၍မိန့်တော်မူသော်လည်း၊ပကတိအိပ်ပျော်
ကြောင်းကိုမိန့်တော်မူသည်ဟု၊တပည့်တော်တို့
၁၄ သည်ထင်မှတ်ကြ၏၊-ထိုကြောင့်ယေရှုက၊လာဇ
ရုသေပြီ၊သင်တို့သည်ယုံကြည်မည်အကြောင်း၊-
၁၅ ထိုအရပ်၌ ငါမရှိသည်ကိုထောက်၍သင်တို့ အ
တွက် ငါ ဝမ်းမြောက် ခြင်း ရှိ၏၊ သူ ဆီသို့ လာ
သွားကြကုန်အံ့ဟု၊ အတည့်အလင်း မိန့်တော်မူ
၁၆ ၏၊- ဒိဒုမုအမည်ရှိသောသောမက၊အကျွန်ုပ်တို့
လည်းလိုက်၍ သခင်နှင့်အတူ အသေခံကြကုန်
အံ့ဟု၊တပည့်တော်ချင်းတို့အား ပြောဆို၏၊
၁၇ ယေရှု သည် ရောက် တော်မူသောအခါ၊ လာ
ဇရုကိုသင်းဂြိုဟ်၍သင်းချိုင်းတွင်း၌ လေးရက်
၁၈ လွန်လေပြီ၊- ဗေသနိရွာသည် ယေရု ရှလင်မြို့
၁၉ နှင့်တတိုင်ထောက်သာကွာသည်ဖြစ်၍၊-မာသ
နှင့်မာရိတို့၏ မောင်သေသောကြောင့်၊ သူတို့ကို
နှစ်သိမ့်စေလိုသောငှါ ယုဒလူများတို့သည် လာ
၂၀ ကြ၏၊- ယေရှုကြွလာ တော်မူကြောင်းကိုမာသ
သည် ကြားလျှင်၊ ကိုယ်တော်ကို ခရီးဦးကြိုပြု
ခြင်းငှါသွား၏၊မာရိမူကား၊ အိမ်၌ထိုင်လျက်နေ
၂၁ ရစ်၏၊- မာသက၊ သခင်၊ ကိုယ်တော်ရှိတော်မူ
၂၂ လျှင် ကျွန်မ၏မောင် မသေပါ၊- ယခုသော်လျက်
ရှိသော်လည်း၊ကိုယ်တော်သည်ဘုရားသခင်ကို
ဆု တောင်း တော် မူ သမျှ အ တိုင်း ဘုရား သခင်
ပေးတော်မူမည်ကိုကျွန်မသိပါသည်ဟု လျှောက်
၂၃ ၏၊- ယေရှု က လည်း၊ သင်၏ မောင် သည် ထ
၂၄ မြောက် လိမ့် မည်ဟု မိန့် တော် မူ၏၊- မာသက
လည်း၊ နောက် ဆုံးသော နေ့ တည်း ဟူသော ထ
မြောက်ရာကာလ၌သူသည်ထမြောက်လိမ့်မည်

၂၅ ကိုကျွန်မသိပါသည်ဟုလျှောက်၏။- ယေရှုက
ထည့်။ ငါသည်ထမြောက်ခြင်း၊အကြောင်း၊ အ
သက် ရှင်ခြင်း၊ အကြောင်း၊ ဖြစ်၏၊ ငါ့ကိုယုံကြည်
သော သူ သည် သေ လွန် သော် ထည်း ရှင် လိမ့်
၂၆ မည်။-ငါ့ကိုယုံကြည်၍အသက်ရှင်သောသူရှိသ
မျှ ထို့သည် ထ ည်း၊ သေခြင်း နှင့် အစည် မပြတ်
ကင်းလွတ်ကြလိမ့်မည်၊ဤစကားကိုယုံသလော
ဟုမေးတော်မူလျှင်၊မာသက၊ဟုတ်ပါ၏သခင်။-
၂၇ ကိုယ်တော်သည် ခရစ်တော်တည်း ဟူသော ဤ
လောကသို့ ကြွလာတော်မူသော ဘုရားသခင်၏
သားတော်ဖြစ်တော်မူသည်ကိုကျွန်မယုံပါသဉ်
ဟုလျှောက်၏။
၂၈ ထိုသို့ လျှောက် ပြီးမှ မာသ သည် သွား၍ ဓိဓိ
ညီမမာရိအား၊ အရှင်ဘုရားရောက်လာတော်မူ
ပြီ၊ သင့်ကိုခေါ်တော်မူသည်ဟု၊ တိတ်ဆိတ်စွာ
၂၉ ခေါ်ငြထ၏။-မာရိသည်ထိုစကားကိုကြား၊လျှင်၊
အလျှင်တဆော ထ၍ အထံ တော်သို့ သွား၊ ထေ
၃၀ ၏။- ထိုအခါ ယေရှုသည် ရွာထဲသို့ မဝင်သေး၊
မာသ ခရီးဦးကြို ပြုသော အရပ်၌ ရှိတော် မူသ
၃၁ တည်း။- ထိုကြောင့်၊ နှစ်သိမ့်စေသောစကားကို
ပြောလျက်၊ မာရိနှင့်အတူအိမ်၌ရှိသောယုဒလူ
တို့သည်၊ မာရိ အလျှင်တဆောထ၍ ထွက်သွား
သည်ကိုမြင်ကြလျှင်၊ ငိုကျွေးခြင်းငှါ သင်းချိုင်း
သို့ သွား၊ပြီဟုဆို၍ သူ နောက်သို့ လိုက် ကြ၏။-
၃၂ မာရိသည် ယေရှုရှိတော်မူရာ အရပ်သို့ ရောက်
၍ကိုယ်ထိတော်ကို မြင်လျှင်၊ ခြေတော်ရင်း၌ ပြပ်
ဝပ်လျက်၊ သခင်၊ ကိုယ် တော် ရှိတော် မူလျှင်၊
၃၃ ကျွန်မ၏ မောင် မသေပါဟု လျှောက်၏။- မာရိ
မှစ၍လိုက်လာသောယုဒလူတို့သည်ငိုကျွေးကြ
သည် ကို ယေရှု သည် မြင် တော် မူ သောအခါ၊
၃၄ အလွန်ညှိုးငယ်ခြင်း၊ စိတ်ပူပန်ခြင်းရှိ၍၊- အ
လောင်းကို အဘယ်မှာ ထား၊ကြသနည်း၊ဟု မေး
တော်မူလျှင်၊ သခင်၊ ကြွ၍ ကြည့်တော်မူပါဟု
၃၅ လျှောက်ကြ၏။-ယေရှုသည်မျက်ရည်ကျတော်
၃၆ မူ၏။- ယုဒလူတို့က၊ကြည့်ပါ။လာဇရုကိုအလွန်
၃၇ ချစ်တော်မူပါသည် တကား၊ဟု ဆိုကြ၏။- အချို့
တို့က၊ မျက် မိကန်း၊သော သူကို မြင် စေတော်မူ
သောဤသခင်သည်၊လာဇရုကိုမသေစေခြင်းငှါ
၃၈ မတတ်နိုင်သလောဟု ဆိုကြ၏။- တဖန် ယေရှု
သည် အလွန်ညှိုးငယ်သောစိတ်နှင့် သင်း၊ချိုင်း၊
တွင်း၊ထို့ ရောက် တော်မူ၏၊ ထို တွင်း၊ သည် မြေ
၃၉ တွင်းဖြစ်၏၊ကျောက်နှင့်ပိတ်ထား၏။-ကျောက်
ကိုရွေ့ကြလော့ဟု၊ယေရှုသည်မိန့်တော်မူလျှင်၊
သေလွန်သော သူ၏ နှမ မာသက၊ သခင်၊ ယခု
ဖြစ်လျှင်နံလိမ့်မဉ်၊လေးရက်ရှိပါပြီဟုလျှောက်
၄၀ ၏။- ယေရှုကထည်း၊ သင်သည်ယုံလျှင် ဘုရား
သခင်၏ ဘုန်း၊ အာနုဘော် တော်ကို မြင် ရလိမ့်
၄၁ မဉ်၊ငါပြောပြီမဟုတ်လောဟုမိန့်တော်မူ၏။-ထို
အခါ သေလွန်သောသူ၏ သင်းချိုင်း၊မှ ကျောက်
ကို ရွေ့ကြ၏၊ ယေရှု သည်လည်း၊ အထက် သို့
ကြည့် မျှော်လျက်၊ အဖ၊ ကိုယ် တော်သည် အ
ကျွန်ုပ် စကားကို နား၊ထောင် တော်မူသော ကျေး
၄၂ ဇူးတော်ကြီး၊လှပါ၏။-ကိုယ်တော်သဉ်အကျွန်ုပ်
စကား၊ကိုအစဉ်မပြတ်နား၊ထောင်တော်မူသည်
ကိုအကျွန်ုပ်သိပါ၏၊သို့သော်လည်း၊ကိုယ်တော်
သည်အကျွန်ုပ်ကို စေလွှတ်တော်မူသည်ကို ဝန်း
ရံလျက်ရှိသောဤလူအပေါင်းတို့သည်ယုံကြည်
စေခြင်း၊ငှါ၊ သူတို့၏အကျိုး၊ကို ထောက်၍ ဤသို့
အကျွန်ုပ် လျှောက်ပါ၏ဟု မိန့် မြွက် တော် မူပြီး
၄၃ မှ၊- လာဇရု၊ထွက်၍လာလော့ဟု၊ကြီးသောအ
၄၄ သံနှင့်တစ်ခေါ်တော်မူ၏၊-ထိုအခါသေလွန်သော
သူသည်၊ ဓိဓိခြေထက်၌ ဝုဆိုး၊နှံယော် နှင့်ရစ်ပတ်
လျက်၊ မျက်နှာကို လည်း ပဝါ နှင့် စည်း၊လျက်
ထွက်လာ၏၊ယေရှုကလည်း၊သူကိုဖြေ၍ သွားစေ
၄၅ ကြလော့ဟု မိန့်တော်မူ၏။- ထိုအခါ မာရိဆီသို့
လာသောယုဒလူအများ၊တို့သည် ယေရှုပြုတော်
မူသောအမှုကိုမြင်လျှင်၊ကိုယ်တော်ကိုယုံကြည်
၄၆ ကြ၏။- အချို့မူကား၊ ဖာရိရှဲ ထို့ထံသို့ သွား၍
ယေရှုပြုတော်မူသောအမှုကိုကြား၊ပြောကြ၏။
၄၇ ထိုအခါယဇ်ပုရောဟိတ်အကြီး၊တို့နှင့်ဖာရိရှဲ
များ၊သည် လွှတ် အရာရှိတို့ကို စည်း၊ဝေး၊စေပြီး
လျှင်၊ ငါတို့သည် အဘယ်သို့ ပြုလျက်နေကြသ
နည်း။ ထိုသူသည်များ၊စွာသောနိမိတ်လက္ခဏာ
၄၈ ကိုပြ၏၊ သူကို ဤသို့ အလွတ်ထား၊လျှင် လူခပ်
သိမ်း၊တို့သည် ယုံကြည်ကြလိမ့်မည်၊ ရောမ လူ
တို့သည်လည်း၊လာ၍ ငါတို့အရပ်ရွာနှင့်၊ငါ
တို့အမျိုး၊ကိုလုယ်သုတ်သင်ပယ်ရှင်း၊ကြလိမ့်မည်
၄၉ ဟု ပြောဆိုကြ၏။- ထိုသူတို့အဝင်၊ ထိုနှစ်တွင်
ယဇ်ပုရောဟိတ် မင်း၊ဖြစ်သောကယာဖအမည်
ရှိသောသူက၊ သင်တို့သည် အလျှင်း၊မသိကြ။-
၅၀ ယုဒလူမျိုး၊အကုန်အစင် ပျက်စီး၊သည်ထက်၊ လူ
တယောက်သည် လူများ၊တို့ အတွက် သေစေသော်
သာ၍ ကောင်း၊သည်ကို သင်တို့သည် မထင်ခြင့်
၅၁ ပါတကား၊ဟုပြောဆို၏။- ထိုစကားကို ကိုယ်အ

ထိုအလျောက်ပြောဆိုသည်မဟုတ်၊ ထိုနှစ်တွင်
ယဇ်ပုရောဟိတ်မင်းဖြစ်လျက်၊ ယေရှုသည်ထို
၅၂ အမျိုးအတွက်သေရမည်ဟူ၍၎င်း၊– ထိုအမျိုးအ
တွက်သာမက၊ အရပ်ရပ်တို့၌ ကွဲပြား လျက် ရှိ
သောဘုရားသခင်၏သားများကိုအတူစုဝေးစေ
ခြင်းငှါ သေရမည် ဟူ၍ ၎င်း၊ ပရောဖက် ဉာဏ်
၅၃ နှင့်ဟောပြော၏။– ထိုနေ့မှစ၍ကိုယ်တော်၏အ
၅၄ သက်ကိုသတ်ခြင်းငှါတိုင်ပင်ကြံစည်ကြ၏။– ထို
ကြောင့်၊ ယေရှုသည်နောက်တဖန်ယုဒလူတို့တွင်
ထင်ရှားစွာမလှည့်လည်ဘဲ၊ ထိုအရပ်မှထွက်၍
တောနှင့်အနီး၊ ဧဖရိမ်အမည်ရှိသော မြို့သို့ကြွ
၍တပည့်တော်တို့နှင့်အတူနေတော်မူ၏။
၅၅ ယုဒပသခါပွဲခံခါနီးတွင်လူများတို့သည်မိမိတို့
ကိုသန့်ရှင်းစေခြင်းငှါ ပွဲမခံမှီ အရပ်ရပ်တို့မှ
၅၆ ယေရုရှလင်မြို့သို့လာကြ၏၊– ထိုသူတို့သည်ယေ
ရှုကိုရှာဖွေ၍၊ အချင်းတို့၊ အဘယ်သို့ထင်ကြသ
နည်း၊ သူသည်ပွဲသို့မလာသလောဟု၊ ဗိမာန်
၅၇ တော်၌ရပ်လျက်အချင်းချင်းမေးမြန်းကြ၏၊– ထို
အခါ အဘယ်သူသည် ယေရှုရှိရာအရပ်ကို သိ
လျှင်၊ သူကိုဖမ်းဆီးစေခြင်းငှါ ပြသွန်ရမည်ဟု၊
ယဇ်ပုရောဟိတ် အကြီးတို့နှင့် ဖာရိရှဲ တို့သည်
မှာခဲ့ကြပြီ။

၁၂

၁ ပသခါ ပွဲခံမှန် ခြောက်ရက် လိုသေး သောအ
ခါ၊ အထက်ကသေလွန်၍ သေခြင်းမှ ထမြောက်
စေတော်မူသော လာဇရု နေရာ အရပ်၊ ဗေသနိ
၂ ရွာသို့ယေရှုသည်ရောက်တော်မူ၏။– ထိုကြောင့်၊
ထိုသူတို့သည် ပွဲလုပ်ကြသဖြင့် မာသသည်လုပ်
ကျွေးမှုကို ဆောင်၍၊ လာဇရု သည် ကိုယ်တော်
၃ နှင့် အတူလျောင်းသောသူတို့အဝင်ဖြစ်၏။– ထို
အခါ မာရိသည် အဘိုးများစွာထိုက်သော နာဒု
ဆီမွှေးစစ်အကျပ်သုံးဆယ်ကိုယူ၍၊ ယေရှု၏ခြေ
တော်ကိုလိမ်းပြီးလျှင်မိမိဆံပင်နှင့်သုတ်သဖြင့်၊
ထိုဆီ၏ အမွှေးသည် တအိမ်လုံးကို နံ့ပြား၏။–
၄ တပည့်တော်တို့အဝင်ဖြစ်၍ကိုယ်တော်ကိုအပ်
၅ နှံမည်သူ၊ ရှိမုန်၏သားယုဒရှကာရုတ်က၊– ထိုဆီ
မွှေးကို ဒေနာရိ အပြားသုံးရာအဘိုးနှင့် ရောင်း
၍ဆင်းရဲသောသူတို့အားအဘယ်ကြောင့်မပေး
၆ သနည်းဟု ဆို၏၊– ထိုသို့ဆိုသော်၊ ဆင်းရဲသော
သူတို့အကျိုးကိုထောက်၍ ဆို သည်မဟုတ်၊ မိမိ
သည် သူခိုးဖြစ်လျက်၊ တပည့်တော်များသုံးရန်
ငွေအိတ်ကိုဆောင်၍ နှိုက်ယူတတ်သောကြောင့်
၇ သာဆိုသတည်း။– ယေရှုသည်ထည်း၊ ထိုမိန်း
မကိုမှီစေတော့၊ငါ၏အလောင်းကိုသင်းပြိုဟ်ခြင်း
ငှါ ပြင်ဆင်သော နေ့ ထိုင် အောင် သူသည် ဤဆီ
၈ မွှေးကို သိထားပြီ၊– ဆင်းရဲသော သူ တို့ ကား၊
သင်တို့၌အစဉ်ရှိကြ၏၊ ငါမူကား၊ အစဉ်ရှိသည်
မဟုတ်ဟုမိန့်တော်မူ၏။
၉ ထိုအရပ်၌ယေရှုရှိတော်မူသည်ကိုယုဒလူများ
အပေါင်းတို့သည်သိလျှင်၊ ကိုယ်တော်ကြောင့်
သာလာသည်မဟုတ်၊ သေခြင်းမှ ထမြောက်စေ
တော်မူသောလာဇရုကိုမြင်ခြင်းငှါ လာကြ၏။–
၁၀ ထိုသို့ယုဒလူများတို့သည်လာဇရုကိုအကြောင်း
၁၁ ပြုသဖြင့်ထွက်သွား၍၊ ယေရှုကိုယုံကြည်သော
ကြောင့်၊ ယဇ်ပုရောဟိတ်အကြီးတို့သည်လာဇ
ရုကိုထည်းသတ်ခြင်းငှါတိုင်ပင်စီရင်ကြ၏။
၁၂ နက်ဖန်နေ့၌ ယေရှု သည် ယေရုရှလင် မြို့သို့
ကြွလာ တော်မူသည်ကို၊ ထိုပွဲသို့ လာသော လူ
၁၃ အစုအဝေးအပေါင်းတို့သည်ကြားရလျှင်၊– စွန်
ပလွံခက်များကိုကိုင်လျက်၊ ကိုယ်တော်ကို ခရီး
ဦးကြိုပြုအံ့သောငှါထွက်သွားကြ၍၊ ဟောရှဏ္ဏ
ဖြစ်စေသတည်း၊ ထာဝရဘုရား၏ အခွင့်နှင့်ကြွ
လာတော်မူသော ဣသရေလရှင်ဘုရင်သည် မင်္ဂ
၁၄ လာရှိစေသတည်းဟုကြွေးကြော်ကြ၏။– ကျမ်း
၁၅ စာ၌ လာသည်ကား၊ ဇိအုန်သတို့သမီး၊ မစိုး
ရိမ်နှင့်၊ သင်၏ အရှင်မင်းကြီးသည် မြည်းကလေး
ကို စီး၍ သင်ရှိရာသို့ ကြွ လာ တော် မူ သည် ကို
ကြည့်ရှုလော့ဟုရေးထားသည်နှင့်အညီ၊ ယေ
၁၆ ရှုသည်မြည်းကလေးကိုတွေ့၍စီးတော်မူ၏။– ထိုအ
ကြောင်းအရာကို တပည့်တော်တို့သည် အစအ
ဦး၌နားမလည်သော်လည်း၊ ကိုယ်တော်ကိုရည်
မှတ်၍ ထိုသို့ရေးထားသည်ကို၎င်း၊ ကိုယ်တော်
အားထိုသို့ ပြုကြသည်ကို၎င်း၊ ဘုန်းပွင့်တော်မူ
သည်နောက်သတိရ၍မှတ်မိကြ၏။
၁၇ နောက်တော်သို့ လိုက်သော လူအစုအဝေးတို့
သည်ကား၊ လာဇရုကိုသင်းချိုင်းတွင်းမှခေါ်၍
သေခြင်းမှထမြောက်စေတော်မူသည်အကြောင်း
၁၈ ကိုသက်သေခံကြ၏။– ထိုနိမိတ်လက္ခဏာကို ပြု
တော်မူသည်ဟု လူများ တို့သည် သိတင်းကြား
သောကြောင့်၊ ခရီးဦးကြိုပြုအံ့သော ငှါ ထွက်
၁၉ သွားကြ၏။– ဖာရိရှဲအချင်းချင်းတို့ထည်း၊ သင်
တို့သည်အလျှင်းမတတ်နိုင်၊ ဤလောကသည်သို
သူနောက်သို့လိုက်သွားပါပြီဘကား၊ ဟု ပြောဆို
ကြ၏။

၂၀ ကိုး၊ ကွယ်ခြင်း၊ အ မှု နှင့် ထိုပွဲသို့ ရောက် လာ
၂၁ သောသူတို့တွင် ဟေလသလူအချို့ပါ၏။— ထိုသူ
တို့သည်ဂါလိလဲပြည်ဗက်ဇဲဒမြို့သား၊ဖြစ်သော
ဖိလိပ္ပုထံသို့ သွား၍၊ အကျွန်ုပ်တို့သည် ယေရှု
ကို မြင်ချင်ပါသည်၊ ခင်ဗျား၊ ဟု တောင်း၊ ပန်ကြ
၂၂ ၏။-ဖိလိပ္ပုလည်းသွား၍အန္ဒြေကိုကြား၊ပြောပြီး
မှ၊ထိုသူနှစ်ယောက်တို့သည် ယေရှုကိုလျှောက်
၂၃ ၏။— ယေရှုကလည်း၊ လူသား၊သည် ဘုန်း၊ပွင့်ရ
၂၄ သောအချိန်ရောက်လာပြီ။— ငါအမှန်အကန်ဆို
သည်ကား၊ မြေ၌ကျသောစပါး၊စေ့သည် မပျက်
လျှင်တစေ့တည်း၊နေ၏၊ပျက်လျှင်မူကား၊များ၊စွာ
၂၅ သောအသီး၊ကိုသီး၊တတ်၏။— မိမိအသက်ကို နှစ်
မြော သော သူ သည် အသက် ဆုံး၊ လိမ့် မည်။ ဤ
လောက၌ မိမိအသက်ကို ရွံ၊သော သူမူကား၊
၂၆ ထာဝရအသက်ကိုစောင့်ရှောက်လျက်နေ၏။—ငါ
၏အမှုကိုဆောင်ရွက်သောသူဖြစ်လျှင်၊ငါ့နောက်
သို့လိုက်ရမည်။ ငါ၏အမှုဆောင်သည်လည်း၊ငါ
ရှိရာ အရပ်၌ ရှိလိမ့်မည်။ ငါ၏ အမှုကို ဆောင်
ရွက် သော သူဖြစ်လျှင်၊ ထို သူကို ခမည်း၊တော်
သည် ချီး၊မြှောက်တော်မူလတံ့။
၂၇ ငါသည် ယခု စိတ်နှစ်လုံး၊ ပူပန်ခြင်း၊ရှိ၏။ အ
ဘယ်သို့ငါလျှောက်ရမည်နည်း၊။ ထိုအချိန်မှအ
ကျွန်ုပ်ကိုကယ်တင်တော်မူပါအဖဟု လျှောက်ရ
မည်လော။ ထို အကြောင်း၊ ရှိ၍ သာ ထို အချိန် သို့
၂၈ ရောက်လာပြီ။ အိုအဖ၊ ကိုယ်တော်၏နာမတော်
ကို ချီး၊မြှောက်တော်မူပါဟု မိန့်မြွက်တော်မူ၏။
ထို အခါ ကောင်း၊ ကင်မှ စကား၊ သံ ကား၊၊ ငါ ချီး၊
မြှောက်ခဲ့ပြီ၊တဖန်ချီး၊မြှောက်ဦး၊မည်ဟုလာ၏။—
၂၉ ဝန်း၊ရံ လျက် ရှိ သော လူ အ စု အ ဝေး၊ တို့ သည်
ကြား၊လျှင်၊ မိုဃ်း၊ခြိမ်း၊သည်ဟုဆိုကြ၏။ အချို့
ကလည်း၊၊ ကိုယ်တော်အား၊ ကောင်း၊ကင် တမန်
၃၀ မြွက်သည်ဟုဆိုကြ၏။— ယေရှုက၊ ထိုစကား၊သံ
သည်ငါ့အဖို့အလိုငှါ လာသည်မဟုတ်၊ သင်တို့
၃၁ အဖို့အလိုငှါလာ၏။— ယခုတွင် ဤလောကသည်
တရား၊စီရင်ခြင်း၊ကို ခံရ၏၊ ယခုတွင် ဤလောက
ကို အစိုး၊ရသောမင်း၊သည် ပြင်သို့နှင်ထုတ်ခြင်း၊
၃၂ ကိုခံရလိမ့်မည်။- ငါသည်လည်း၊မြေကြီး၊ နှင့် ခွာ
၍မြှောက် ထား၊ခြင်း၊ကိုခံရလျှင်၊ လူအပေါင်း၊တို့
၃၃ ကိုငါ့ထံသို့ငါဆွဲမည်ဟုမိန့်တော်မူ၏။- ထိုသို့မိန့်
တော်မူသော်၊မိမိသည်အဘယ်သို့သေရမည်အ
ရိပ်ကိုပေး၊တော်မူ၏။
၃၄ လူများ၊တို့ကလည်း၊၊ ခရစ်တော်သည် အစဉ်
အမြဲတည်သည်ဟု ပညတ္တိကျမ်း၊၌လာကြောင်း၊
ကို အကျွန်ုပ်တို့ ကြား၊သိရပြီ၊ သို့ ဖြစ် လျှင်၊ လူ
သား၊သည်မြှောက်ထား၊ခြင်း၊ကိုခံရမည်ဟု၊သင်
သည် အဘယ်သို့ဆိုသနည်း၊။ ထိုလူသား၊သည်
၃၅ အဘယ်သို့သောသူနည်း၊ဟုဆိုကြ၏။—ယေရှုက
လည်း၊၊ အလင်း၊သည်သင်တို့တွင် ခဏသာရှိ၏။
အ လင်း၊ ရှိစဉ် အခါ သွား၊ လာ ကြ လော့။ သို့မ
ဟုတ်လျှင်၊ မှောင်မိုက် သည် သင် တို့ကို မှီလိမ့်
မည်။ မှောင်မိုက်၌ သွား၊သောသူသည် အဘယ်
၃၆ ဆီသို့မိမိသွား၊သည်ကိုမိမိမသိ။— အလင်း၊ရှိစဉ်
အခါ အလင်း၏သား၊ဖြစ်တို့သောငှါ အလင်း၊ကို
ယုံ ကြည်ကြ လော့ဟု မိန့် တော်မူ၏။ ထိုသို့ မိန့်
တော်မူပြီး၊မှ၊ ယေရှုထငိုထွက်ကြွ၍ ထိုသူတို့ကို
ထိမ်း၊ရှောင်လျက်နေတော်မူ၏။
၃၇ ထိုမျှလောက် ကြီး၊စွာသော နိမိတ် လက္ခဏာ
တို့ကိုသူတို့ရှေ့မှောက်၌ပြတော်မူသော်လည်း၊
၃၈ လူတို့သည်ယုံကြည်ခြင်း၊သို့မရောက်ကြ။— ပရော
ဖက်ဟေရှာယဟောသော သူ၊ သည်ကား၊၊ အိုထာဝရ
ဘုရား၊၊ အကျွန်ုပ် တို့ ဟော ပြော သော သိတင်း၊
စကား၊ ကို အ ဘယ် သူ ယုံပါ သနည်း၊။ ထာဝရ
ဘုရား၏ လက်တော်သည် အဘယ် သူ၌ ဘော်
ရှား၊တော်မူသနည်း၊ဟူသောစကား၊သည်ပြည့်စုံ
၃၉ ခြင်း၊သို့ရောက်သတည်း။— ထိုကြောင့်ပရောဖက်ဟေ
၄၀ ရှာယဟောပြန်သည်ကား၊—လူတို့မျက်စိမမြင်၊
စိတ်နှလုံး၊နား၊မလည်၊အကျင့်မပြောင်း၊သဖြင့်၊ သူ
တို့အနာရောဂါကိုငါမငြိမ်း၊စေသည်တိုင်အောင်
သူတို့မျက်စိကိုကွယ်စေတော်မူ၏၊သူတို့စိတ်နှလုံး
ကိုမိုက်စေတော်မူ၏ ဟူသောစကား၊ကြောင့်
ထိုလူတို့သည်ယုံကြည်ခြင်း၊သို့မရောက်နိုင်ကြ။—
၄၁ ဟေရှာယသည်ဘုန်း၊အသရေတော်တော်ကိုမြင်၍
ရှာဖိတ်တော်ကိုပြန်စဉ်တွင်ထိုစကား၊ကိုဟော
၄၂ ပြောသတည်း။— သို့သော်လည်း၊၊အရာ၊ရှိအများ
တို့သည် ကိုယ်တော်ကို ယုံကြည်ကြ၏။ တရား၊
စရပ်မှ ဝါဒ်၍ ထို သည် နှင် ထုတ် မည် ကို စိုး၊
၄၃ ရိမ်သော ကြောင့် ထင်ရှား၊စွာ ဝန်မခံကြ။— အ
ကြောင်း၊မူကား၊၊ ဘုရား၊သခင် ပေး၊တော်မူသော
ဘုန်း၊အသရေထက်၊ လူ တို့ပေး၊သော ဘုန်း၊အသ
ရေကိုသာ၍နှစ်သက်ကြ၏။
၄၄ ယေရှုကလည်း၊၊ ငါ့ကိုယုံကြည်သော သူသည်
ငါ့ကိုသာ ယုံကြည် သည်မဟုတ်၊ ငါ့ကို စေလွှတ်
၄၅ တော်မူသောသူကိုယုံကြည်၏။— ငါ့ကိုကြည့်မြင်
သောသူသည်၊ ငါ့ကို စေလွှတ်တော်မူသောသူကို

၄၆ ကြည့်မြင်၏။- ငါ့ကို ယုံကြည် သမျှသော သူတို့
သည် မှောင် မိုက် ၌ မ နေ စေ ခြင်း ငှါ၊ ငါသည်
၄၇ အလင်း ဖြစ်လျက် ဤလောကသို့ ကြွ လာ ပြီ။-
ငါ့စကားကိုကြားသောသူသည် မယုံကြည်ဘဲနေ
လျှင်၊ ထိုသူကိုငါသည် အပြစ်မစီရင်၊ လောကီ
သားတို့ကို အပြစ်စီရင်ဖို့သောငှါ ငါလာသည်
မဟုတ်၊ လောကီသားတို့ကို ကယ်တင်ဖို့သော
၄၈ ငှါငါလာ၏။- ငါ့ကိုပယ်၍ ငါ့ စကား ကို နား မခံ
သောသူအား အပြစ်စီရင်သောသူရှိသေး၏၊ ငါ
ဟောပြောသောစကားပင် နောက်ဆုံးသောနေ့၌
၄၉ ထိုသူအားအပြစ်စီရင်လိမ့်မည်။- အကြောင်းမူ
ကား၊ငါသည်ကိုယ်အလိုအလျောက်ဟောပြော
သည်မဟုတ်၊ ငါ့ကိုစေလွှတ်တော်မူသောခမည်း
တော်သည် အဘယ်သို့ ငါဆုံးမဟောပြောရမည်
ကိုပညတ်ပေးတော်မူပြီ၊ ခမည်းတော်၏ ပညတ်
တော်သည် ထာဝရ အသက်ဖြစ်သည်ကို ငါသိ
၅၀ ၏။- ထို့ကြောင့်၊ ဟောပြောသမျှတို့ကို ခမည်း
တော်မှာထားတော်မူသည့်အတိုင်း ငါဟောပြော
သည်ဟုကျွေးကြော်၍မိန့်တော်မူ၏။

၁၃

၁ ပသခါပွဲမခံမှီ၌ယေရှုသည်ဤလောကမှခမည်း
တော်ထံသို့ ပြောင်းရသော အချိန် ရောက် ဘည်
ကို သိတော်မူသည်ဖြစ်၍၊ ဤလောက၌ရှိသော
မိမိလူတို့ကိုချစ်တော်မူသောကြောင့် အဆုံးတိုင်
၂ အောင်ချစ်တော်မူ၏။-ကိုယ်တော်ကိုအပ်နှံမည်
အကြောင်း၊ မာရှိနတ် သည် ရှိမုန်၏ သား ယုဒ
ရှကာရုတ်၏စိတ်နှစ်လုံး၌အကြံပေးသွင်းနှင့်သ
၃ တည်း၊ ထိုအခါညစာကို စားကြစည်၊- ခမည်း
တော်သည်အလုံးစုံတို့ကိုသူ၏ လက်သို့အပ်ပေး
တော် မူ သည် ကိုငင်၊ သူ သည် ဘုရားသခင် ထံ
တော်မှ ထွက်လာသည်ကိုငင်၊ ဘုရားသခင် ထံ
တော်သို့ ကြွ သွား မည်ကို ငင်၊ ယေရှု သည် သိ
၄ တော်မူသည်နှင့်၊- စားပွဲမှထ၍ ဝတ်လုံတော်ကို
ချွတ်ပြီးလျှင်၊ ပဝါကိုယူ၍ ခါးကို စည်းတော်မူ
၅ ၏။- ထိုနောက်မှ ရေကိုအင်တုံ၌ ထောင်း၍ တ
ပည့်တော်တို့၏ခြေကိုဆေး ပြီးမှခါး၌စည်းသော
ပဝါနှင့်သုတ်တော်မူ၏။
၆ ရှိမုန်ပေတရုထံသို့ ရောက်တော်မူ သောအခါ
ထို တပည့် တော်က၊သခင်၊ကိုယ်တော်သည်အ
ကျွန်ုပ်၏ ခြေကို ဆေးတော် မူမည်လောဟု မေး
၇ လျှောက်၏။- ယေရှုကထည်း၊ သင်သည် ငါပြု
သောအမှုကိုယခုနားမလည်သေး၊ နောက်မှသိ
၈ လိမ့်မည်ဟု မိန့်တော်မူ၏။- ပေတရု ကလည်း
ကိုယ် တော်သည် အကျွန်ုပ် ၏ ခြေကို အ ရှည်
ဆေးတော်မမူရဟုလျှောက်၏၊ ယေရှုကထည်း၊
သင့်ကို ငါမဆေးရလျှင်သင်သည်ငါနှင့် မဆက်
၉ ဆံရဟု မိန့်တော်မူ၏။- ရှိမုန်ပေတရုကထည်း၊
အကျွန်ုပ်၏ ခြေကို သာ မဆေးပါနှင့်၊ လက်ကို
၎င်း၊ခေါင်းကို၎င်းဆေးတော်မူပါဟုလျှောက်
၁၀ ပြန်၏။- ယေရှုကလည်း၊ရေချိုးပြီးသောသူမည်
သည်ကား၊ခြေဆေးခြင်းမှတပါးဆေးရသောအ
ကြောင်းမရှိ၊ တကိုယ်လုံးစင်ကြယ်၏၊ သင်တို့
သည်စင်ကြယ်သော်လည်း၊ အရှိမစင်ကြယ်ဟု
၁၁ မိန့်တော်မူ၏။- ကိုယ်တော်ကိုအပ်နှံမည်သူကို
သိတော်မူသောကြောင့်၊ သင်တို့တွင် တရှို့မစင်
ကြယ်ဟုမိန့်တော်မူသတည်း။
၁၂ ထိုသို့သူတို့၏ ခြေကိုဆေးတော်မူပြီးမှ တဖန်
ဝတ်လုံကိုဝတ်၍လျောင်းတော်မူလျက်၊သင်တို့
၌ ငါပြုခဲ့သောအမှုကို နားလည်ကြသလော။-
၁၃ သင်တို့သည်ငါ့ကိုအရှင်ဘုရားဟူ၍၎င်း၊ သခင်
ဟူ၍၎င်း ခေါ်တတ်ကြ၏၊ ထိုစကားသည်းထုတ်
မှန်သော စကားဖြစ်၏၊ အကြောင်းမူကား၊ သခင်
၁၄ တို့ခေါ်ကြသည်အတိုင်းငါမှန်၏။-ငါသည်သခင်
ဖြစ်လျက်၊အရှင်ဘုရားလည်းဖြစ်လျက် နှင့်သင်
တို့၏ခြေကိုဆေးလျှင်၊ သင်တို့သည်အချင်းချင်း
၁၅ တို့၏ခြေကိုဆေးရကြမည်။- ငါသည် သင်တို့၌
ပြုသကဲ့သို့ သင်တို့သည် ပြုစေ ခြင်း ငှါ ပုံ သက်
၁၆ သေကိုပြခဲ့ပြီ။- ငါအမှန်အကန် ဆိုသည်ကား၊
ကျွန်သည် သခင် ထက် သာ၍ ကြီး မြတ်သည်မ
ဟုတ်၊ တ မန် သည် ထည်း၊ စေလွှတ် သော သူ
၁၇ ထက် သာ၍ကြီးမြတ်သည် မဟုတ်။- ဤ အရာ
ရှာကိုသင်တို့သိ၍ သိသည်အတိုင်းကျင့်လျှင်
၁၈ မင်္ဂလာရှိကြ၏။-သင်တို့ရှိသမျှကိုငါရည်မှတ်၍
ပြောသည်မဟုတ်၊ ငါ ရွေးကောက်သော သူတို့
ကို ငါ သိ ၏၊ ကျမ်း စာ ချက် ပြည့် စုံစေ မည့်အ
ကြောင်း၊ ငါနှင့်အတူစားသောသူသည်ငါ့ကိုခြေ
၁၉ နှင့် ကျောက်သတည်း။- ထိုအမှု အရာ ရောက်
သောအခါ၊ ငါသည်ဤမည်သော သူဖြစ်သည်
ကိုသင်တို့သည် ယုံကြည်စေခြင်းငှါ၊ မရောက်မှီ
၂၀ ယခုပင်သင်တို့အားငါပြောနှင့်ပြီ၊- ငါအမှန်အ
ကန်ဆိုသည်ကား၊ ငါစေလွှတ်သောသူကိုထက်
ခံသောသူသည်ငါ့ကိုထက်ခံ၏၊ ငါ့ကိုထက်ခံသော
သူသည်ငါ့ကိုစေလွှတ်တော်မူသောသူကိုထက်ခံ
သည်ဟုမိန့်တော်မူ၏။

၂၁ ထိုသို့ယေရှုသည်မိန့်တော်မူပြီးမှစိတ်နှလုံး
တော်ပူပန်ခြင်းရှိ၍၊ ငါအမှန်အကန် ဆိုသည်
ကားသင်တို့တွင်တစုံတယောက်သောသူသည်
ငါ့ကို အပ်နှံလိမ့်မည်ဟု၊ သက်သေခံလျက် မိန့်
၂၂ တော်မူ၏။-အဘယ်သူကိုရည်စောင်း၍မိန့်တော်
မူသည်ကိုတပည့်တော်တို့သည်တွေးတောခြင်း
ရှိသဖြင့်၊ အချင်းချင်းတယောက်ကို တယောက်
၂၃ ကြည့်ရှုကြ၏။- ယေရှုချစ်တော်မူသော တပည့်
တော်သည်ရင်ခွင်တော်နားမှာလျောင်းသဖြင့်၊-
၂၄ အဘယ်သူကို ရည်စောင်း၍ မိန့်တော်မူသနည်း
ဟုမေးစေခြင်းငှါ၊ ရှိမုန်ပေတရုသည်ထိုတပည့်
၂၅ တော်ကို အမှတ်ပေး၏။- ထိုတပည့်တော်သည်
ယေရှု၏ရင်တော်ကိုမှီ၍လျောင်းနေလျက်၊သခင်၊
၂၆ အဘယ်သူနည်းဟုလျှောက်၏။-ယေရှုကလည်း၊
ဤမုန့်တလုတ်ကို ငါနှစ်၍ ပေးသောသူဖြစ်၏
ဟု မိန့်တော်မူပြီးလျှင်၊ မုန့်တလုတ်ကို နှစ်ပြီး
မှ ရှိမုန်၏သား ယုဒရှကာရုတ်အား ပေးတော်မူ
၂၇ ၏။-ထိုသူသည်မုန့်တလုတ်ကိုခံပြီးမှ၊စာတန်
သည် သူ့အထဲသို့ ဝင်လေ၏၊ ယေရှုကလည်း၊
သင်ပြုရသောအမှုကို အလျင်အမြန်ပြုလော့ဟု၊
၂၈ ထိုသူအားမိန့်တော်မူ၏။- အဘယ်ကြောင့် ထို
သို့မိန့်တော်မူသည်ကို စားပွဲ၌ လျောင်းသောသူ
၂၉ တို့တွင်အဘယ်သူမျှမသိ။- အချို့တို့က၊ယုဒရှ
ကာရုတ်သည်ငွေအိတ်ကိုဆောင်သောကြောင့်၊
ဤပွဲ၌ငါတို့သုံးစရာအမှုကို ဝယ်လော့ဟူ၍၎င်း၊
သို့မဟုတ်၊ ဆင်းရဲသောသူတို့အားတစုံတခုကို
ပေးလော့ ဟူ၍၎င်း၊ ယေရှု မိန့်တော်မူသည်ဟု
၃၀ ထင်မှတ်ကြ၏။-ယုဒရှကာရုတ်သည်မုန့်တလုတ်
ကို ခံပြီးမှ ချက်ချင်း ထွက်သွား၏၊ ထိုအချိန်
ကား ညအချိန်ဖြစ်၏။

၃၁ ထိုသူထွက်သွားသည်နောက်၊ ယေရှုက၊ ယခုတွင်
လူသားသည် ဘုန်းထင်ရှားခြင်းရှိသည်ဖြစ်၍၊
ဘုရားသခင်သည်လည်း၊ လူသားအားဖြင့်ဘုန်း
၃၂ တော်ထင်ရှားခြင်းရှိ၏။- ဘုရားသခင်သည် လူ
သားအားဖြင့် ဘုန်းတော်ထင်ရှားခြင်း ရှိလျှင်၊
ဘုရားသခင်သည် ကိုယ်တော်တိုင်အားဖြင့် သူ
၏ဘုန်းကို ထင်ရှားစေတော်မူလိမ့်မည်၊ ကာလ
မကြာမမြင့်မှီ သူ၏ဘုန်းကို ထင်ရှား စေတော်မူ
၃၃ လိမ့်မည်။- ချစ်သားတို့၊ ငါသည်သင်တို့နှင့်အ
တူခဏသာနေရ၏၊သင်တို့သည်ငါ့ကိုရှာကြလိမ့်
မည်။ ငါသွားရာအရပ်သို့ သင်တို့ မလိုက်နိုင်
ကြဟု၊ယုဒလူတို့အားငါပြောသကဲ့သို့ ယခုသင်
၃၄ တို့အား ငါပြော၏။- သင်တို့သည်အချင်းချင်းတ
ယောက်ကို တယောက် ချစ်ကြလော့၊ ငါသည်
သင်တို့ကို ချစ်သည်နည်းတူ အချင်းချင်း ချစ်ကြ
၃၅ လော့ဟုပညတ်သစ်ကိုငါပေး၏။- သင်တို့သည်
အချင်းချင်းချစ်ကြလျှင်၊လူအပေါင်းတို့သည်ထို
မေတ္တာကိုထောက်၍ သင်တို့သည် ငါ၏တပည့်
ဖြစ်သည်ကိုသိရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၃၆ ရှိမုန်ပေတရုက၊ သခင်၊ ကိုယ်တော်သည်အ
ဘယ် အရပ် သို့ ကြွ တော် မူ မည် နည်း ဟု မေး
လျှောက်လျှင်၊ ယေရှုက၊ ငါသွားရာ အရပ်သို့
သင်သည်ယခုမလိုက်နိုင်၊နောက်မှလိုက်ရလိမ့်
၃၇ မည်ဟုမိန့်တော်မူ၏။-ပေတရုကလည်း၊ သခင်၊
အကျွန်ုပ် သည် ကိုယ် တော် နှင့် အတူ အဘယ်
ကြောင့်ယခုမလိုက်နိုင်သနည်း၊ ကိုယ်တော်အ
ဖို့အကျွန်ုပ်၏ အသက်ကိုစွန့်ပါမည်ဟု လျှောက်
၃၈ လျှင်၊-ယေရှုက၊ ငါ့အဖို့သင့်အသက်ကိုစွန့်မည်
လော၊ ငါအမှန်အကန်ဆိုသည်ကား၊ ကြက်မ
တွန်မှီ သင်သည် သုံးကြိမ် မြောက် အောင် ငါ့ကို
ငြင်းပယ်လိမ့်မည်ဟုမိန့်တော်မူ၏။

၁၄

၁ အောက်ပါ ယေရှုက၊ သင်တို့ စိတ်နှလုံး ပူပန်
ခြင်း မရှိ စေနှင့်၊ ဘုရား သခင်ကို ယုံကြည် ကြ
၂ လော့၊ ငါ့ကိုလည်းယုံကြည်ကြလော့။- ငါ့အဘ၏
အိမ် တော်၌ နေစရာ အ ခန်း အများ ရှိ၏၊ သို့မ
ဟုတ်လျှင်၊ မဟုတ်ကြောင်းကိုသင်တို့အားငါမ
ပြောဘဲမနေ၊ သင်တို့ နေစရာ အရပ်ကို ပြင်ဆင်
၃ ခြင်းငှါငါသွားရ၏။- ငါသည်သွား၍သင်တို့နေ
စရာအရပ်ကိုပြင်ဆင်ပြီးမှတဖန်လာပြန်၍၊ ငါ
ရှိရာအရပ်၌ သင်တို့ရှိစေခြင်းငှါ၊ သင်တို့ကို ငါ
၄ ထံသို့ သိမ်းဆည်းမည်။- ငါသည် အဘယ်အ
ရပ်သို့သွားသည်ကို၎င်း၊ ထိုလမ်းကို၎င်း၊ သင်
၅ တို့သိကြ၏ဟု မိန့်တော်မူ၏။- သောမကလည်း၊
သခင်၊ကိုယ်တော်သည်အဘယ်အရပ်သို့သွား
တော်မူသည်ကို အကျွန်ုပ်တို့ မသိသည် ဖြစ်၍၊
ထိုလမ်းကို အဘယ်သို့ သိနိုင်ပါမည်နည်းဟု
၆ လျှောက်လျှင်၊ ယေရှုက၊ ငါသည်လမ်းဖြစ်
၏၊သမ္မာတရားလည်းဖြစ်၏၊အသက်လည်းဖြစ်
၏၊ငါ့ကိုအမှီမပြုလျှင်၊အဘယ်သူမျှ အဘထံတော်
၇ သို့မရောက်ရ။- သင်တို့သည်ငါ့ကိုသိလျှင်၊ ငါ့
အဘ တော် ကို မသိ ဘဲ မနေ ရကြ၊ ယခု မှစ၍
အဘတော်ကိုသိမြင်ကြ၏ဟုမိန့်တော်မူ၏။
၈ ဖိလိပ္ပုကလည်း၊ သခင်၊ အဘတော်ကိုအ

ကျွန်ုပ်တို့အားပြတော်မူပါ။ ထိုသို့ပြတော်မူလျှင်
အကျွန်ုပ်တို့အလိုပြည့်စုံပါပြီဟု လျှောက်
၉ လျှင်၊- ယေရှုက၊ ဖိလိပ္ပု၊ ဤမျှကာလပတ်လုံးငါ
သည် သင်တို့နှင့်အတူရှိပြီးမှ သင်သည်ငါ့ကိုမ
သိသေးသလော။ ငါ့ကိုမြင်သောသူသည်ခမည်း
တော်ကိုမြင်၏။ သို့ဖြစ်လျှင်၊ ခမည်းတော်ကိုအ
ကျွန်ုပ်တို့အားပြတော်မူပါဟု၊ သင်သည်အဘယ်
၁၀ သို့ ဆိုရသနည်း။- ငါသည် ခမည်းတော်၌ ရှိ
သည် ကိုငှင်၊ ခမည်းတော်သည် ငါ၌ ရှိတော်မူ
သည်ကိုငှင် မယုံသလော။ ငါ ဟောပြောသော
စကားကို ကိုယ်အလိုအလျောက် ငါဟောပြော
သည်မဟုတ်။ ငါပြုသော အမှုတို့ကိုကား၊ ငါ၌
တည်နေတော်မူသော ခမည်းတော်သည် ပြုတော်
၁၁ မူ၏။- ငါသည် ခမည်းတော်၌ ရှိသည်ကိုငှင်၊
ခမည်းတော်သည်ငါ၌ရှိတော်မူသည်ကိုငှင် ယုံ
ကြလော့။ ငါ့စကားကို မယုံလျှင်၊ ငါ့အမှုတို့ကို
၁၂ ထောက်၍ ယုံကြလော့။- ငါ အမှန်အကန် ဆို
သည်ကား၊ ငါ့ကို ယုံကြည်သော သူသည် ငါပြု
သော အမှုတို့ကို ပြုလိမ့်မည်။ ထိုအမှုတို့ထက်
သာ၍ ကြီးသော အမှုတို့ကိုလည်း ပြုလိမ့်မည်။
အကြောင်းမူကား၊ ငါသည် ခမည်းတော်ထံသို့
၁၃ သွား၏၊- သင်တို့သည်ငါ၏နာမကိုအမှီပြု၍လျှောက်
ဆုတောင်းသမျှအတိုင်း ငါပြုမည်။ အကြောင်း
မူကား၊ ခမည်းတော်သည်သားတော်အားဖြင့်
ဘုန်းထင်ရှားတော်မူခြင်းရှိမည်အကြောင်း
၁၄ တည်း။- သင်တို့သည်ငါ၏နာမကို အမှီပြု၍၊ တ
စုံတခုသောဆုကိုတောင်းလျှင်၊ တောင်းသည်အ
တိုင်း ငါပြုမည်။
၁၅ ငါ့ကိုချစ်လျှင်၊ ငါ့ပညတ်တို့ကိုစောင့်ရှောက်ကြ
၁၆ လော့။ ငါသည် ခမည်းတော်ကိုတောင်း၍၊- ခ
မည်းတော်သည် သစ္စာတရားကိုပြသောဝိညာဉ်
တော်တည်းဟူသောတပါးသောဥပဇ္ဈာယ်ဆရာ
ကို၊ သင်တို့နှင့်အတူ အစဉ်မပြတ် တည်နေစေ
၁၇ ခြင်းငှါ သင်တို့အားပေးတော်မူမည်။- ထိုဝိညာဉ်
တော်ကိုလောကီသားတို့သည် မသိမမြင်သော
ကြောင့် မခံမယူနိုင်ကြ။ ထိုဝိညာဉ်တော်သည်
သင်တို့နှင့်အတူတည်နေ၍၊ သင်တို့၌ရှိတော်မူ
၁၈ သောကြောင့် သင်တို့သိရကြ၏။- ငါသည် သင်
တို့ကိုမိဘမဲ့ဖြစ်စေခြင်းငှါ စွန့်ပစ်မည်မဟုတ်။
၁၉ သင်တို့ဆီသို့လာဦးမည်။- ခဏကြာပြီးမှလော
ကီသားတို့သည်ငါ့ကိုမမြင်ရကြ။ သင်တို့မူကား
မြင်ရကြလိမ့်မည်။ ငါသည် အသက်ရှင်သော
ကြောင့် သင်တို့သည်လည်း အသက်ရှင်ရကြ
၂၀ လိမ့်မည်။- ငါသည်ခမည်းတော်၌ရှိသည်ကိုငှင်၊
သင်တို့သည်ငါ၌ရှိသည်ကိုငှင်၊ ငါသည်သင်တို့
၌ ရှိသည်ကိုငှင်၊ ထိုနေ့၌သင်တို့သည် သိရကြ
၂၁ လိမ့်မည်။- ငါ့ပညတ်တို့ကို ရ၍ စောင့်ရှောက်
သော သူသည် ငါ့ကို ချစ်သော သူဖြစ်၏။ ငါ့ကိုချစ်
သောသူကို ငါ့ခမည်းတော်သည်ချစ်တော်မူမည်။
ငါသည်လည်း ထိုသူကိုချစ်၍၊ သူ့အားကိုယ်ကိုထင်
ထင်ရှားရှားပြမည်ဟု မိန့်တော်မူ၏။
၂၂ ယုဒရှကာရုတ်မဟုတ်၊ အခြားသော ယုဒ
သခင်၊ ကိုယ်တော်သည် လောကီသားတို့အား
မထင်ရှားဘဲ အကျွန်ုပ်တို့အား အဘယ်သို့
ထင်ရှားတော်မူမည်နည်းဟု မေးလျှောက်၏။-
၂၃ ယေရှုကလည်း၊ ငါ့ကိုချစ်သောသူသည်ငါ့စကား
ကိုနားထောင်လိမ့်မည်။ ငါ့ခမည်းတော်သည်ထို
သူကိုချစ်တော်မူသည်။ ငါတို့သည်လည်း ထုံ၏
၂၄ သို့ကြွ၍နေရာချမည်။- ငါ့ကိုမချစ်သောသူသည်
ငါ့စကားကို နားမထောင်။ သင်တို့ ကြားသော
စကားသည်ငါ့စကားမဟုတ်၊ ငါ့ကိုစေလွှတ်တော်
၂၅ မူသောခမည်းတော်၏ စကားတော်ဖြစ်၏။- ငါ
သည် သင်တို့နှင့်အတူ ရှိစဉ်တွင် ဤစကားကို
၂၆ ပြောခဲ့ပြီ။- ခမည်းတော်သည်ငါ့အတွက်ကြောင့်
စေလွှတ်တော်မူသော ဥပဇ္ဈာယ်ဆရာတည်းဟူ
သောသန့်ရှင်းသော ဝိညာဉ်တော်သည် သင်တို့
အား ခပ်သိမ်းသောအရာတို့ကို ပြသသွန်သင်
တော်မူ၍၊ ငါပြောခဲ့သမျှသောစကားတို့ကိုမှတ်
မိသောဉာဏ်ကိုသင်တို့အားပေးတော်မူမည်။-
၂၇ ငြိမ်သက်ခြင်းကိုသင်တို့၌ငါထားခဲ့၏။ ငါ၏ငြိမ်
သက်ခြင်းကို သင်တို့အား ငါပေး၏။ လောကီ
သားတို့ပေးသကဲ့သို့ ငါပေးသည်မဟုတ်။ သင်
တို့စိတ်နှစ်ထုံးပူပန်ခြင်း၊ မိုးမိုက်တုန်လှုပ်ခြင်းမ
၂၈ ရှိစေနှင့်။- ငါသည်ယခုသွားသော်သည်။ သင်
တို့ဆီသို့လာဦးမည်ဟု၊ ငါပြောသော စကားကို
သင်တို့ကြားရကြပြီ။ သင်တို့သည်ငါ့ကိုချစ်လျှင်၊
ခမည်းတော်ထံသို့ငါသွားမည်ကိုဝမ်းမြောက်
ကြလိမ့်မည်။ အကြောင်းမူကား၊ ငါ့ခမည်းတော်
၂၉ သည်ငါ့ထက်သာ၍ကြီးမြတ်တော်မူ၏။- ထိုအမှု
အရာရောက်သောအခါ သင်တို့သည် ယုံကြည်
စေခြင်းငှါ၊ မရောက်မှီ ယခုပင် သင်တို့အား ငါ
၃၀ ပြောနှင့်ပြီ။- ယခုမှစ၍ငါသည်သင်တို့နှင့်များ
စွာမပြောရ။ အကြောင်းမူကား၊ ဤလောကကို
အစိုးရသောမင်းသည်လာဆဲဖြစ်၏။ လာသော်

ထည့်။ ငါ၌အဘယ်အခွင့်အရာကိုမျှ မတွေ့ရ။-
၃၁ ငါသည်ခမည်းတော်ကိုချစ်သည်ကိုငင်၊ ခမည်း
တော်မှာတော်မူသည်အတိုင်းငါပြုသည်ကိုငင်၊
လောကီသားတို့ သိမည် အကြောင်းတည်း။ ဤ
အရပ်မှထ၍သွားကြကုန်အံ့။

၁၅

၁ ငါသည်မှန်သောစပျစ်နွယ်ပင်ဖြစ်၏။ ငခမည်း
တော်သည်လည်းဥယျာဉ်စောင့်ဖြစ်တော်မူ၏။-
၂ ငါ၌ အသီးမသီးသော အခက်ရှိသမျှတို့ကို ရုတ်
ဖြတ်တော်မူ၏။ အသီးသီးသောအခက်ရှိသမျှတို့
ကို၊ သာ၍ သီးစေခြင်းငှါ သုတ်သင် ရှင်းလင်း
၃ တော်မူ၏။- သင်တို့သည် ငါဟော ပြောသော
စကားအားဖြင့်ယခုပင်ရှင်းလင်းလျက်ရှိကြ၏။-
၄ ငါ၌တည်နေကြလော့။ ငါသည်လည်းသင်တို့၌
တည် နေမည်။ စပျစ်ခက်သည် အပင်၌ မတည်
လျှင်၊ ကိုယ်အလိုအလျောက်အသီးမသီးနိုင်သ
ကဲ့သို့၊ သင်တို့သည်ငါ၌မတည်လျှင်အသီးမသီး
၅ နိုင်ကြ။- ငါသည်စပျစ်နွယ်ပင်ဖြစ်၏။ သင်တို့
သည်အခက်များဖြစ်ကြ၏။ အကြင်သူသည် ငါ
၌တည်၍ငါသည်လည်းသူ၌တည်၏၊ ထိုသူသည်
များစွာသော အသီးကို သီးတတ်၏။ ငါနှင့်ကွာ
လျှင်သင်တို့သည်အဘယ်အမှုကို မျှမတတ် နိုင်
၆ ကြ။- ငါ၌ မ တည် သော သူသည် အွေခြောက်
သောအခက်ကဲ့သို့၊ ပြင်သို့ပြစ်လိုက်ခြင်း၊ ကိုခံရ
၏။ ထိုသို့သောအခက်များကိုလူတို့သည် စုသိမ်း
၍မီးထဲသို့ချလိုက်ကြသဖြင့်၊ မီးလောင်ခြင်းသို့
၇ ရောက်ကြ၏။-သင်တို့သည်ငါ၌တည်၍ငစကား
ထည်သင်တို့၌တည်လျှင်၊ သင်တို့သည်တောင်း
ချင်သမျှကိုတောင်း၍ရကြလိမ့်မည်။
၈ သင်တို့သည်များစွာသောအသီးကိုသီးသော
အားဖြင့်၊ ငခမည်းတော်သည် ဘုန်းထင်ရှား
တော်မူ၍၊ သင်တို့သည်လည်းငါ၏ တပည့်မှန်
၉ ကြလိမ့်မည်။- ခမည်းတော်သည်ငကိုချစ်တော်
မူသကဲ့သို့ငါသည်သင်တို့ကိုချစ်၏။ ငါ၏ချစ်ခြင်း
၁၀ မေတ္တာ၌ တည်နေကြလော့။- ငါသည် ငခမည်း
တော်၏ ပညတ် တို့ကို စောင့် ရှောက်၍ ခမည်း
တော်၏မေတ္တာ၌တည်နေသကဲ့သို့၊ သင်တို့သည်
င ပညတ်တို့ကို စောင့်ရှောက်လျှင်၊ ငမေတ္တာ၌
၁၁ တည်နေကြလိမ့်မည်။-သင်တို့၌ငါဝမ်းမြောက်
-ရာအကြောင်းတည်စေခြင်းငှါငင်၊ သင်တို့ဝမ်း
မြောက်ရာအကြောင်းစုံလင်စေခြင်းငှါငင်၊ ဤ
၁၂ စကားကိုသင်တို့အားငါဟောပြော၏။-ပညတ်
ဟူမူကား၊ ငါသည်သင်တို့ကိုချစ်သည်နည်းတူ၊
၁၃ သင်တို့သည်အချင်းချင်းချစ်ကြလော့။- ကိုယ်အ
ဆွေတို့အဖို့ အလို့ငှါ ကိုယ် အသက်ကို စွန့်ခြင်း
မေတ္တာထက် သာ၍မြတ်သောမေတ္တာသည် အ
၁၄ ထယ်သူ၌မျှမရှိ။- သင်တို့သည် ငါပညတ်သမျှ
တို့ကိုကျင့်ဆောင်လျှင်၊ ငါ၏အဆွေ ဖြစ်ကြ၏။-
၁၅ ထရှေ့မှစ၍ ငါသည်သင်တို့ကို ကျွန်ဟူ၍ မခေါ်။
ကျွန်မူကား၊ ကိုယ်သခင်ပြုသော အမှုကို မသိ။
သင်တို့ကို အဆွေဟူ၍ ငါခေါ်၏။ အကြောင်းမူ
ကား၊ ငါသည်ခမည်းတော်ထံ၌ကြားသမျှသော
၁၆ အရာတို့ကိုသင်တို့အားငါပြသ၏။- သင်တို့သည်
ငါ့ကိုရွေးကောက်ကြသည်မဟုတ်။ ငါသည်သင်
တို့ကိုရွေးကောက်သဖြင့်၊ သင်တို့သည် သွား၍
တည်ကြည်သောအသီးကို သီးမည်အကြောင်း
နှင့်၊ ငနာမကိုအမှီပြု၍ခမည်းတော်မှာ တောင်း
သမျှတို့ကို ရမည်အကြောင်း၊ သင်တို့ကို ငါခန့်
ထား၏။
၁၇ သင် တို့ သည် အချင်း ချင်း ချစ် စေ ခြင်းငှါ ဤ
၁၈ ပညတ်တို့ကိုငါပေး၏။- လောကီသားတို့သည်
သင်တို့ကိုမုန်းလျှင်၊ သင်တို့ကိုမမုန်းမှီငကိုမုန်း
၁၉ ကြသည်ကို သိမှတ် ကြလော့။- သင် တို့ သည်
လောကီနှင့်ဆက်ဆံလျှင်၊ လောကီသားတို့သည်
မိမိ တို့နှင့် ဆက်ဆံသော သင် တို့ ကို ချစ် ကြ လိမ့်
မည်။ သင်တို့သည်လောကီနှင့်မဆက်ဆံ၊ လော
ကီ ထဲ က ငါ ရွေး ကောက် သော သူ ဖြစ် သော
ကြောင့်၊ လောကီ သားတို့သည် သင်တို့ကို မုန်း
၂၀ ကြ၏။- ကျွန်သည် မိမိ သခင်ထက် သာ၍ကြီး
မြတ်သည်မဟုတ်ဟု၊ ငါပြောခဲ့ပြီးသော စကား
ကိုအောက်မေ့ကြလော့။ သူတို့သည် ငကိုညှဉ်း
ဆဲလျှင်၊ သင်တို့ကို ညှဉ်းဆဲ ကြ လိမ့်မည်။ င
စကားကို နားထောင်လျှင်၊ သင်တို့၏ စကားကို
၂၁ နားထောင်ကြလိမ့်မည်။- ထိုသူတို့သည်ငကိုစေ
လွှတ်တော်မူသော သူကိုမသိသည်ဖြစ်၍၊ ငါ၏
နာမကြောင့် သင်တို့အားထိုအမှုရှိသမျှတို့ကို ပြု
၂၂ ကြလိမ့်မည်။- ငါသည်လာ၍ ထိုသူတို့အား မ
ဟော မပြော လျှင်၊ သူတို့၌ အ ပြစ်မရှိ။ ယခုမူ
၂၃ ကား၊ မိမိတို့အပြစ်ကိုဖုံးကွယ်၍ မထားနိုင်ကြ။- င
ကိုမုန်းသောသူသည်ငခမည်းတော်ကိုမုန်း၏။-
၂၄ ငါသည် အခြားသူမပြုဘူးသောအမှုကိုထိုသူတို့
ရှေ့မှာမပြုလျှင် သူတို့၌အပြစ်မရှိ။ ယခုမူကား
သူတို့သည် ထိုအမှုကိုမြင်ရ၍၊ ငါနှင့် ငခမည်း
၂၅ တော်ကိုမုန်းကြ၏။- သို့ဖြစ်လျှင်၊ အကြောင်းမ

မှတ်ကဲကိုရှုနိုင်ကြ၏ထု၊ သူတို့၏ပညတ္တိကျမ်းစာ၌ ရေးထားသောစကားသည်ပြည့်စုံခြင်းသို့ရောက်
၂၆ သတည်း။ ခမည်းတော်ထံမှထွက်လာ၍ သစ္စာတရားနှင့် ပြည့်စုံသော ဝိညာဉ်တော်တည်း၊ ထု
သော၊ ခမည်းတော်ထံမှ သင်တို့ဆီသို့ငါစေလွှတ်
တော်သော ဥပဇ္ဈာယ် ဆရာ သည် ရောက် လာ
သောအခါ၊ ငါ၏အကြောင်းကိုသက်သေခံလိမ့်
၂၇ မည်။ သင်တို့သည်လည်းအရှေ့ဦး၌ ငါနှင့်
အတူ ရှိနေသောကြောင့် သက်သေ ခံရကြလိမ့်
မည်။

## ၁၆

၁ သင်တို့သည် မှိတ်မလွတ်စေခြင်းငှါ ဤစကား
၂ ကိုငါပြော၏။ တောကိုသားတို့သည်သင်
တို့ကို အရေးစရပ်မှ နှင်ထုတ်လိမ့်မည်။ သင်တို့
ကိုသတ်သောသူမည်သည်ကား၊ ဘုရားဝတ်ကို
ငါပြုပြီဟု မှိမိ ထင် မှတ် သော အချိန် ကာလ
၃ ရောက်လိမ့်မည်။ ခမည်းတော်ကို မသိ၊ ငါ့ကို
လည်းမသိသောကြောင့်ထိုသို့ပြုကြလိမ့်မည်။
၄ ထိုအချိန်ကာလ ရောက်သောအခါ၊ ငါသည်အ
ထက်က ဤသို့ ပြောပြီးသည်ကို သင်တို့အောက်
မေ့စေခြင်းငှါယခုပင်ငါပြော၏။ အစအဦး
၌ သင်တို့ နှင့် အတူ ငါ ရှိသောကြောင့် ဤသို့ မ
၅ ပြောဘူးသေး။ ငါ့ကို စေလွှတ်တော်မူသော သူ
ထံသို့ ယခုငါသွားရမည်ဖြစ်၍၊ အဘယ်အရပ်
၆ သို့ သွားမည်နည်းဟု သင်တို့မမေးကြ။ ဤအ
ကြောင်း အရာတို့ကို ငါပြောသောကြောင့်
သင်တို့သည် အလွန် ဝမ်းနည်းခြင်းသို့ ရောက်
ကြ၏။
၇ ငါအမှန်အကန် ဆိုသည်ကား၊ ငါသွားလျှင်
သင်တို့အကျိုးရှိလိမ့်မည်။ အကြောင်းမူကား၊
ငါမသွားလျှင် ဥပဇ္ဈာယ် ဆရာသည် သင်တို့ဆီ
သို့မလာ။ ငါသွားလျှင်ထိုသူကိုသင်တို့ဆီသို့ငါ
၈ စေလွှတ်မည်။ ဥပဇ္ဈာယ်ဆရာသည်ရောက်လာ
လျှင်၊ ဒုစရိုက်အပြစ်ကို၎င်း၊ အပြစ်ကင်းခြင်းကို
၎င်း၊ အပြစ်စီရင်ခြင်းကို၎င်း၊ လောကီသားတို့အား
၉ ထင်ရှားစွာဖော်ပြမည်။ ငါ့ကိုမယုံကြည်ကြသော
၁၀ ကြောင့်ဒုစရိုက်အပြစ်ကိုဖော်ပြမည်။ ငါသည်
ခမည်းတော်ထံသို့သွားမည်ဖြစ်၍၊ သင်တို့သည်
နောက်တဖန် ငါ့ကို မတွေ့ မမြင်ရသောကြောင့်၊
၁၁ အပြစ်ကင်းခြင်းကိုဖော်ပြမည်။ ဤလောကကို
အစိုးရသော မင်းသည် အပြစ်စီရင်ခြင်းကို ခံရ
သောကြောင့်အပြစ်စီရင်ခြင်းကိုဖော်ပြမည်။

၁၂ သင်တို့အားငါပြောစရာစကားအများရှိသေး
၁၃ သည်။ သင်တို့သည် ယခု မခံနိုင်ကြ။ သစ္စာ
တရားနှင့် ပြည့် စုံသော ဝိညာဉ် တော် သည်
ရောက်လာ သောအခါ၊ သစ္စာတရားကို သင်တို့
အား အကြွင်းမဲ့ လွှန် ထင် ပြ လိမ့် မည်။ ထို
ဝိညာဉ်တော်သည် ကိုယ်အလိုအလျောက် သော
ပြောမည်မဟုတ်၊ ကြားသမျှတို့ကို ပြောလိမ့်
မည်။ နောင် လာ လတံ့ သော အရာ တို့ ကို
၁၄ လည်း သင်တို့အားဖော်ပြလိမ့်မည်။ ထိုသူသည်
ငါ့ဘုန်းကို ထင်ရှားစေလိမ့်မည်။ အကြောင်းမူ
ကား၊ ငါနှင့်စပ်ဆိုင်သောအရာကိုယူ၍ သင်တို့
၁၅ အားဖော်ပြလိမ့်မည်။ ခမည်းတော်နှင့်စပ်ဆိုင်
သမျှသည် ငါနှင့်စပ်ဆိုင်၏။ ထိုကြောင့်၊ ငါနှင့်
စပ်ဆိုင်သောအရာကိုယူ၍ သင်တို့အား ဖော်ပြ
လိမ့်မည်ဟုငါပြော၏။
၁၆ ခဏကြာပြီးမှ သင်တို့သည် ငါ့ကို မမြင်ရကြ။
တဖန်ခဏကြာပြီးမှ ငါ့ကိုမြင်ပြန်ကြလိမ့်မည်။
အကြောင်းမူကား၊ ငါသည် ခမည်းတော်ထံသို့
၁၇ သွားမည်ဟုမိန့်တော်မူ၏။ တပည့်တော်အချို့
ကလည်း၊ ခဏကြာပြီးမှသင်တို့သည်ငါ့ကိုမမြင်
ရကြ။ တဖန်ခဏကြာပြီးမှ ငါ့ကိုမြင်ပြန်ကြလိမ့်
မည်ဟူ၍၎င်း၊ အကြောင်းမူကားငါသည်ခမည်း
တော်ထံသို့သွားမည်ဟူ၍၎င်း၊ မိန့်တော်မူသော
၁၈ စကားသည် အဘယ်သို့နည်း။ ခဏဟူ၍ မိန့်
တော်မူသော်၊ အဘယ်သို့ဆိုလိုသနည်း။ မိန့်တော်
မူသောစကားကို အကျွန်ုပ်တို့သည် နားမလည်
၁၉ ဟု၊ အချင်းချင်းပြောဆိုကြ၏။ တပည့်တော်တို့
သည်မေးလျှောက်လိုသည်ကိုယေရှုသိမြင်တော်
မူလျှင်၊ ခဏကြာပြီးမှသင်တို့သည် ငါ့ကိုမမြင်ရ
ကြ။ တဖန်ခဏကြာပြီးမှ ငါ့ကို မြင်ပြန်ကြလိမ့်
မည်ဟုငါပြောသောစကားကို၊ သင်တို့သည်အ
၂၀ ချင်းချင်းဆင်ခြင်ကြသလော။ ငါအမှန်အကန်
ဆိုသည်ကား၊ သင်တို့သည် ငိုကြွေး မြည်တမ်း
ခြင်းရှိကြလိမ့်မည်။ လောကီသားတို့သည်ဝမ်း
မြောက်ခြင်းရှိကြလိမ့်မည်။ သင်တို့မူကား၊ ဝမ်း
နည်းခြင်းရှိသော်လည်း ထိုဝမ်းနည်းခြင်းသည်
၂၁ တဖန်ဝမ်းမြောက်ခြင်းဖြစ်လိမ့်မည်။ မိန်းမသည်
သားကို ဖွားမည့်အခါ ဖွားရသော အချိန် ရောက်
သောကြောင့်ဝမ်းနည်းခြင်းရှိ၏။ ဖွားမြင်ပြီးမှ
ဤလောက၌ လူ တယောက် ကို ဖွား မြင် သော
ကြောင့်ဝမ်းမြောက်ခြင်းရှိ၍၊ အထက်ခံရသော
၂၂ ဝေဒနာကိုမေ့လျော့တတ်၏။ ထိုနည်းတူ၊ သင်

ဖွား သင်တို့သည် ဝမ်းနည်းခြင်းရှိကြသော်
လည်း နောက်တဖန် သင်တို့ကို ငါတွေ့မြင်သဖြင့်
သင်တို့သည် မိတ်နှလုံး ဝမ်းမြောက်ခြင်းရှိကြ
လိမ့်မည်။ ထိုဝမ်းမြောက်ခြင်းကို အဘယ်သူမျှ
၂၃ လုယူဖျက်ဆီးခြင်းငှါ မတတ်နိုင်။- ထိုနေ့၌ သင်
တို့သည် ငါ့ကို အလျှင်း မမေးမြန်းရကြ။ ငါအမှန်
အကန် ဆိုသည်ကား၊ သင်တို့သည် ငါ၏ နာမကို
အမှီပြု၍ ခမည်းတော်မှာ ဆုတောင်းသမျှ တို့ကို
၂၄ ခမည်းတော်သည် ပေးတော်မူမည်။- ယခုတိုင်
အောင် ငါ၏ နာမကို အမှီပြု၍ သင်တို့ သည် အ
ဘယ်ဆုကိုမျှ မတောင်းကြသေး။ သင်တို့သည်
ဝမ်းမြောက်စရာ အကြောင်း စုံလင်စေခြင်းငှါ
တောင်းကြလော့။ ထိုသို့တောင်းလျှင် ရကြလိမ့်
မည်။
၂၅ ဤအရာတို့ကို ပုံဥပမာအားဖြင့် ငါဟောပြော
၏။ ပုံဥပမာအားဖြင့် မဟောမပြောဘဲ၊ ခမည်း
တော်နှင့် စပ်ဆိုင်သောအရာတို့ကို သင်တို့အား
အတည့် အထင်း ဖော်ပြသော အချိန်ကာလ
၂၆ ရောက်လိမ့်မည်။- ထိုကာလ၌ သင်တို့ သည်
ငါ၏နာမကို အမှီပြု၍ ဆုတောင်းကြလိမ့်မည်။
သင်တို့ အဖို့ အလို့ငှါ ငါသည် ခမည်းတော်ကို
၂၇ တောင်းမည်ဟု မဆို။- အကြောင်းမူကား၊
သင်တို့သည် ငါ့ကိုချစ်ကြ၍၊ ငါသည် ဘုရားသခင်
အထံတော်မှ ကြွလာသည်ကို ယုံကြသောကြောင့်
ခမည်းတော်သည် ကိုယ်တော်တိုင် သင်တို့ကိုချစ်
၂၈ တော်မူ၏။- ငါသည် ခမည်းတော်ထံမှ ထွက်၍၊
ဤလောကသို့ ကြွလာပြီ။ တဖန် ဤလောကမှ
ထွက်၍ ခမည်းတော်ထံသို့ သွားဦးမည်ဟု မိန့်
၂၉ တော်မူ၏။- တပည့်တော်တို့ကလည်း၊ ကိုယ်
တော်သည် ယခုတွင် ပုံဥပမာကို မဆောင်ဘဲ အ
၃၀ တည့်အထင်း ဟောတော်မူ၏။- အလုံးစုံတို့ကို
သိတော်မူသည်ကို၎င်း၊ အဘယ်သူမျှ ကိုယ်တော်
ကို မေးမြန်းစေခြင်းငှါ အလိုတော်မရှိသည်ကို
၎င်း၊ ယခုတွင် အကျွန်ုပ်တို့ သိကြပါ၏။ အကျွန်ုပ်
တို့သည် ဤအကြောင်းကို ထောက်၍ ကိုယ်တော်
သည် ဘုရားသခင် အထံတော်မှ ကြွလာတော်မူ
၃၁ သည်ကို ယုံပါသည်ဟု လျှောက်ကြ၏။- ယေရှု
၃၂ ကလည်း၊ ယခုတွင် ယုံကြပြီလော။- သင်တို့သည်
ကွဲပြား၍၊ ငါ့ကို တကိုယ်တည်းနေစေခြင်းငှါ စွန့်
ပစ်လျက်၊ အသီးအသီး မိမိတို့နေရာသို့ ပြေးသွား
မည့်အချိန်ကာလသည် လာ၍ ယခုပင် ရောက်
လေ၏။ သို့သော်လည်း၊ ငါသည် တကိုယ်တည်း

နေသည်မဟုတ်။ ခမည်းတော်သည် ငါနှင့်အတူ
၃၃ ရှိတော်မူ၏။- သင်တို့သည် ငါ့ကို အမှီပြု၍ ငြိမ်
သက်ခြင်းရှိစေခြင်းငှါ ဤစကားကို ငါဟောပြော
ပြီ။ သင်တို့သည် လောက၌ ဆင်းရဲဒုက္ခကို ခံရ
ကြလိမ့်မည်။ သို့သော်လည်း စိုးရိမ်ကြနှင့်။ ငါ
သည် လောကကို အောင်ပြီဟု မိန့်တော်မူ၏။

၁၇

၁ ထိုသို့မိန့်တော်မူပြီးမှ ယေရှုသည် ကောင်းကင်
သို့ ကြည့်မျှော်၍၊ အိုအဖ၊ အကျွန်ုပ်အချိန်ရောက်
၂ ပါပြီ။- ကိုယ်တော်သည် သားတော်ထံသို့
အပ်ပေးတော်မူသမျှသော သူတို့အား ထာဝရ
အသက်ကို ပေးစေခြင်းငှါ၊ လူမျိုးအပေါင်းတို့
ကိုအစိုးရသော အခွင့်တန်ခိုးကို သားတော်အား
ပေးတော်မူသည်နှင့်အညီ၊ သားတော်သည်
ကိုယ်တော်၏ ဘုန်းကို ထင်ရှားစေပါမည် အ
ကြောင်း သားတော်၏ဘုန်းကို ထင်ရှားစေတော်
၃ မူပါ။- ထာဝရ အသက် ဟူမူကား၊ မှန်သော
ဘုရားသခင်တဆူတည်းဖြစ်တော်မူသော ကိုယ်
တော်ကို၎င်း၊ စေလွှတ်တော်မူသော ယေရှုခရစ်
၄ ကို၎င်း သိကျွမ်းခြင်းတည်း။- အကျွန်ုပ်သည် မြေ
ကြီးပေါ်မှာ ကိုယ်တော်၏ဘုန်းကို ထင်ရှားစေပါ
ပြီ။ အကျွန်ုပ်ဆောင်ရွက်စရာဘို့ အကျွန်ုပ်၌ အပ်
ပေးတော်မူသော အမှုကို အကျွန်ုပ်ဆောင်ရွက်၍
၅ ပြီးပါပြီ။- အိုအဖ၊ ဤကမ္ဘာမတည်မရှိမှီ အထံ
တော်၌ အကျွန်ုပ်ခံစားသော ဘုန်းအသရေနှင့်
ယခုတွင်လည်း အကျွန်ုပ်ကို အထံတော်၌ ချီး
မြှောက်တော်မူပါ။
၆ ဤလောကထဲမှ ယူ၍ အကျွန်ုပ်၌ အပ်ပေးတော်
မူသောသူတို့အား အကျွန်ုပ်သည် ကိုယ်တော်၏
နာမကို ပြပါပြီ။ ထိုသူတို့ကို ကိုယ်တော်သည် ပိုင်
တော်မူသဖြင့် အကျွန်ုပ်အား ပေးတော်မူ၏။
ကိုယ်တော်၏ နှုတ်ကပတ်တရားကို သူတို့သည်
၇ စောင့်ကြပါ၏။- အကျွန်ုပ်အား ပေးတော်မူသမျှ
တို့သည် ကိုယ်တော်မှ ဖြစ်ကြောင်းကို သူတို့သည်
၈ ယခုသိကြပါ၏။- အကြောင်းမူကား၊ အကျွန်ုပ်
အား ပေးတော်မူသမျှသော အရာတို့ကို သူတို့
အား အကျွန်ုပ်ပေး၍ သူတို့သည် ခံယူသဖြင့်၊ အ
ကျွန်ုပ်သည် အထံတော်မှ ကြွလာသည်ကို အ
တပ်သိကြသည်နှင့်၊ ကိုယ်တော်သည် အကျွန်ုပ်
၉ ကို စေလွှတ်တော်မူသည်ကို ယုံကြပါ၏။- သူတို့
အဖို့ အလို့ငှါ အကျွန်ုပ်ဆုတောင်းပါ၏။ လောကီ
သားတို့ အဖို့ အလို့ငှါ ဆုတောင်းသည်မဟုတ်ပါ။

တော်မူပြီးသောအသေပေးတော်မူသောသူတို့သည်ကိုယ်
တော်၏ဥစ္စာဖြစ်သောကြောင့်၊ ထိုသူတို့အဖို့အလို
၁၀ ငှါဆုတောင်းပါ၏။– အကျွန်ုပ်နှင့်စပ်ဆိုင်သော
အရာရှိသမျှတို့သည် ကိုယ်တော်နှင့်စပ်ဆိုင်ကြ
ပါ၏၊ ကိုယ်တော်နှင့်စပ်ဆိုင်သော အရာရှိသမျှ
တို့သည်လည်း၊အကျွန်ုပ်နှင့်စပ်ဆိုင်၍၊ ထိုသော
သူတို့အားဖြင့် အကျွန်ုပ်သည်ဘုန်းထင်ရှားပါ၏။–
၁၁ ထိုမှစ၍အကျွန်ုပ်သည် ဤလောက၌မရှိပါ။ဤ
သူတို့မူကား၊ဤလောက၌ရှိရစ်ရကြပါမည်။အ
ကျွန်ုပ်သည် ကိုယ်တော် ထံသို့ သွားရ ပါမည်။
သန့်ရှင်းတော် မူသောအဘ၊ ကိုယ်တော်နှင့် အ
ကျွန်ုပ်သည် တလုံးတဝတည်းဖြစ်သကဲ့သို့၊ အ
ကျွန်ုပ်အားပေးတော်မူသော ဤသူတို့သည်ဖြစ်
ရပါမည်အကြောင်း၊ သူတို့ကိုကိုယ်တော်၏နာ
၁၂ မ၌ထည်စေတော်မူပါ။–အကျွန်ုပ်သည်ဤလော
က၌ ဤသူတို့နှင့်တကွ ရှိစဉ် ကာလ၊ သူတို့ကို
ကိုယ်တော်၏နာမ၌တည်စေပါပြီ။အကျွန်ုပ်အား
ပေးတော် မူသောသူ တို့ကို အကျွန်ုပ် စောင့်မ ပါ
ပြီ။ ထိုသူတို့တွင်ပျက်စီးခြင်း၏သား၊တယောက်
မှတပါး၊ အဘယ်သူမျှပျက်စီးခြင်းသို့ မရောက်
ပါ။ထိုသူသည် ပျက်စီးခြင်းသို့ ရောက်သည် အ
ကြောင်းကား၊ ကျမ်းစာပြည့်စုံမည်အကြောင်း
တည်း။
၁၃ ယခုတွင် အကျွန်ုပ် သည် ကိုယ် တော် ထံ သို့
သွားရမည်ဖြစ်၍၊ ဤသူတို့သည် အကျွန်ုပ်ကိုအ
မှီပြုသဖြင့် ဝမ်းမြောက်ခြင်းနှင့် ပြည့်စုံမည်အ
ကြောင်း၊ ဤစကားကို ဤ လောက ၌ အကျွန်ုပ်
၁၄ ပြောပါ၏။–ကိုယ်တော်၏နှုတ်ကပတ်တရားကို
ဤသူတို့အားအကျွန်ုပ်ပေးပါပြီ။ အကျွန်ုပ် သည်
ဤလောကနှင့်မဆက်ဆံသကဲ့သို့ ဤသူတို့သည်
မဆက်ဆံသောကြောင့်၊ လောကီသား တို့သည်
၁၅ ဤသူတို့ကိုရွန်းကြပါ၏။–ဤသူတို့ကိုဤလောက
မှ နှုတ် ယူ တော်မူ မည် အ ကြောင်း၊ အ ကျွန်ုပ်
တောင်းသည်မဟုတ်ပါ။မကောင်းသောအမှုအ
ရာနှင့်ကင်းလွတ်စေခြင်းငှါစောင့်မတော်မူမည်
၁၆ အကြောင်းကိုသာတောင်းပါ၏။–အကျွန်ုပ်သည်
ဤလောကနှင့်မဆက်ဆံသကဲ့သို့ ဤသူတို့သည်
၁၇ မဆက်ဆံကြပါ။– ကိုယ် တော်၏ သမ္မာ တရား
အားဖြင့် သူတို့ကို သန့်ရှင်းစေတော်မူပါ။ ကိုယ်
တော်၏နှုတ်ကပတ်သည်သမ္မာတရားဖြစ်ပါ၏။–
၁၈ ကိုယ်တော်သည် အကျွန်ုပ်ကို ဤလောကသို့ စေ
လွှတ်တော် မူသည် နည်း တူ၊ အကျွန်ုပ် သည်
၁၉ ဤ သူတို့ကို စေလွှတ် ပါ၏။– သမ္မာ တရား အား
ဖြင့်သူတို့ကို သန့် ရှင်း စေမည် အကြောင်း။ အ
ကျွန်ုပ် သည် သူတို့အဖို့ အလိုငှါ ကိုယ်ကို သန့်
ရှင်းစေပါ၏။
၂၀ ထိုသူတို့အဖို့ကိုသာအကျွန်ုပ်ဆုတောင်းသည်
မဟုတ်ပါ၊ သူတို့ဟောပြောခြင်း၊ အားဖြင့် အ
ကျွန်ုပ်ကိုယုံကြည်သောသူတို့အဖို့ကိုလည်းဆု
၂၁ တောင်းပါ၏။–ကိုယ်တော်သည် အကျွန်ုပ်ကိုစေ
လွှတ်တော်မူသည်ကို လောကီသားတို့သည်ယုံ
ကြမည်အကြောင်း၊ ထိုသူအပေါင်းတို့သည်တ
လုံးတဝတည်းဖြစ်လျက်၊အဘ၊ကိုယ်တော်သည်
အကျွန်ုပ်၌ ရှိတော်မူ၍ အ ကျွန်ုပ် သည် လည်း
ကိုယ်တော်၌ရှိသကဲ့သို့၊ထိုသူအပေါင်းတို့သည်
ငါတို့၌ တ လုံး တ ဝ တည်း ဖြစ် စေ ခြင်း ငှါ ဆု
၂၂ တောင်းပါ၏။–ငါတို့သည်တလုံးတဝတည်းဖြစ်
၂၃ သကဲ့သို့၊အကျွန်ုပ်သည်သူတို့၌ရှိ၍၊–ကိုယ်တော်
သည်လည်း၊အကျွန်ုပ်၌ရှိတော်မူသောအားဖြင့်
သူတို့သည်တလုံးတဝတည်းဖြစ်၍၊ တလုံးတဝ
တည်း၌ စုံလင်စေခြင်းငှါငှင်၊ ကိုယ်တော်သည်
အကျွန်ုပ်ကို စေလွှတ် တော် မူကြောင်း၊ နှင့်၊ အ
ကျွန်ုပ်ကိုချစ်တော်မူသကဲ့သို့သူတို့ကိုလည်းချစ်
တော်မူကြောင်းကို လောကီသားတို့သည် သိစေ
ခြင်းငှါငှင်၊ကိုယ်တော်သည်အကျွန်ုပ်အားပေး
တော်မူ သောဘုန်းအသရေကို အကျွန်ုပ်သည်
၂၄ သူတို့အားပေးပါပြီ။–အိုအဘ၊ကိုယ်တော်သည်
ဤကမ္ဘာမတည်မရှိမှီအကျွန်ုပ်ကိုချစ်၍အကျွန်ုပ်
အား ပေးတော်မူသောဘုန်းတော်ကို၊ အကျွန်ုပ်
အားပေးတော်မူသောသူတို့သည် ရှုမြင်ရမည်အ
ကြောင်း၊ အကျွန်ုပ်ရှိရာအရပ်၌အကျွန်ုပ်နှင့်အ
၂၅ တူရှိနေစေခြင်းငှါအကျွန်ုပ်အလိုရှိပါ၏။–တရား
တော်မူသောအဘ၊ လောကီသားတို့သည် ကိုယ်
တော်ကို မသိ သော် လည်း၊ အကျွန်ုပ် သိ ပါ၏။
ကိုယ်တော်သည် အကျွန်ုပ်ကို စေလွှတ် တော်မူ
၂၆ ကြောင်းကို ထိုသူတို့သည် သိကြပါ၏။– ကိုယ်
တော်သည်အကျွန်ုပ်ကိုချစ်တော်မူသောမေတ္တာ
သည်သူတို့၌ရှိစေခြင်းငှါငှင်၊ အကျွန်ုပ်သည်သူ
တို့၌ ရှိစေခြင်းငှါ ငှင်၊ ကိုယ်တော်၏ နာမကိုအ
ကျွန်ုပ်သည် သူတို့အား ပြညွှန်ပါပြီဖြစ်၍ အ
စည်ပြညွှန်ပါမည်ဟုမိန့်မြွက်တော်မူ၏။

၁၈

၁ ထိုသို့မိန့်မြွက်တော်မူပြီးမှယေရှုသည်တပည့်
တော်တို့နှင့်အတူ ကေဒြုန်ချောင်းတဘက်သို့ကြွ

၍၊ ထိုအရပ်၌ရှိသောဥယျာဉ်သို့ဝင်တော်မူ၏။-
၂ ထိုအရပ်သို့ယေရှုသည် တပည့်တော်တို့နှင့်အ
တူသွား၍ရှိသောကြောင့်၊ ကိုယ်တော်ကိုအပ်နှံ
သောယုဒရှကာရုတ်သည် ထိုအရပ်ကိုသိသည်
၃ ဖြစ်၍၊- စစ်သူရဲတတပ်ကိုငင်၊ ယဇ်ပုရောဟိတ်
အကြီးတို့နှင့် ဖာရိရှဲ တို့ စေလွှတ် သော မင်းလု
လင် တို့ကို ငင် ခေါ်ခဲ့၍၊ မီးတိမ်၊ မီးရှူး၊ ထက်
၄ နက်တို့ကိုလက်စွဲလျက်လာကြ၏။-ယေရှုသည်
ကိုယ်၌ ဖြစ်လတံ့သမျှသောအမှုအရာတို့ကို သိ
တော်မူလျက်၊ ထွက်သောသူတို့ထံသို့သွား၍၊ အ
၅ ဘယ်သူကိုရှာကြသနည်း၊ ဟုမေးတော်မူ၏။-နာ
ဇရက်မြို့သား၊ ယေရှုကို ရှာကြသည်ဟုဆိုလျှင်၊
ယေရှုက၊ ငါသည်ထိုသူဖြစ်၏ဟု မိန့်တော်မူ၏။
ကိုယ်တော်ကိုအပ်နှံ သောယုဒရှကာရုတ်သည်
၆ ထည်း၊ ထိုသူတို့နှင့်အတူ ရပ်နေ၏။- ငါသည်ထို
သူဖြစ်၏ဟုမိန့်တော်မူလျှင်၊ ထိုသူတို့သည်နောက်
၇ သို့လှန်၍မြေပေါ်၌လဲကြ၏။-အဘယ်သူကိုရှာ
ကြသနည်း၊ ဟုတဖန်မေးတော်မူလျှင်၊ နာဇရက်
မြို့သား၊ ယေရှုကိုရှာကြသည်ဟု၊ ထိုသူတို့သည်
၈ ဆိုကြ၏။-ယေရှုကလည်း၊ ငါသည်ထိုသူဖြစ်၏
ဟု ငါပြောပြီ၊ သို့ဖြစ်၍ ငါ့ကိုရှာလျှင်၊ ဤသူတို့
၉ သည် သွားပါစေဟု မိန့်တော်မူ၏။- ကိုယ်
တော်သည် အကျွန်ုပ်အားပေးတော်မူသော သူ
တို့တွင်အဘယ်သူမျှပျက်စီးခြင်းသို့ မရောက်ပါ
ဟူသောအထက်စကားတော်ကို ပြည့်စုံစေခြင်း
ငှါ ဤသို့မိန့်တော်မူ၏။
၁၀ ထိုအခါရှိမုန်ပေတရုသည်မိမိ၌ပါသောထား
ကို ဆွဲထုတ် ပြီးလျှင်၊ ယဇ်ပုရောဟိတ် မင်း၏
ကျွန်တယောက်ကို ခုတ်သဖြင့် ထကျာ နားရွက်
ပြတ်လေ၏။ ထိုကျွန်၏ အမည်ကား မာလခုဖြစ်
၁၁ သတည်း။-ယေရှုကလည်း၊ ထားကိုအိမ်၌သွင်း
ထားလော့၊ ခမည်းတော်သည်ငါ့အားပေးတော်
မူသော ခွက်ကို ငါ မသောက်ရာသလော့ဟု၊ ပေ
၁၂ တရုအားမိန့်တော်မူ၏။- ထိုအခါတပ်မှူးမှစ၍
စစ်သူရဲတို့နှင့်ယုဒမင်းလုလင်တို့သည်ယေရှုကို
ဖမ်းဆီး၍ ချည်နှောင်ပြီးလျှင်၊ အနှုတ်မင်းထံသို့
၁၃ ရှေ့ဦးစွာယူသွားကြ၏။- အနှုတ်မင်းကား၊ ထို
နှစ်တွင်ယဇ်ပုရောဟိတ်မင်းဖြစ်သောကယာဖ
၁၄ ၏ယောက္ခမဖြစ်သတည်း။-ထိုကယာဖကား၊ လူ
တယောက် သည် လူ များ တို့ အ တွက် ပျက် စီး
ဆော်သာ၍ကောင်းသည်ဟု၊ ယုဒလူတို့နှင့် တိုင်
ပင်ပြောဆိုသောသူပေတည်း။

၁၅ ရှိမုန်ပေတရုနှင့်အခြားသောတပည့်တော်တ
ယောက်သည် ယေရှုနောက်တော်သို့ လိုက်ကြ
၏။ ထိုတပည့်တော်သည် ယဇ်ပုရောဟိတ်မင်း
၏ အသိ အကျွမ်း ဖြစ်၍၊ ယေရှု နှင့်တကွ ယဇ်
၁၆ ပုရောဟိတ်မင်း၏ အိမ်ဦးထဲသို့ဝင်လေ၏။- ပေ
တရုမူကား၊ ပြင်၌ တံခါး နားမှာရပ်နေ၏။ ထို
ကြောင့်၊ ယဇ်ပုရောဟိတ်မင်းနှင့်အကျွမ်းဝင်
သော တပည့်တော်သည် ထွက်၍၊ တံခါးစောင့်
၁၇ မိန်းမအားပြောပြီး၊ ပေတရုကိုသွင်းလေ၏။- တံ
ခါးစောင့်မိန်းမက ပေတရုအား၊ သင်သည်ထိုသူ၏
တပည့်တို့ အဝင် ဖြစ်သည် မဟုတ်လော ဟု ဆို
၁၈ လျှင်၊ မဟုတ်ဘူးဟုပေတရုငြင်းလေ၏။-ထိုအခါ
လ၌ ချမ်းသောကြောင့်ကျွန်များနှင့် မင်းလုလင်
များ၊ မီးသွေးမီးကိုထည့်၍ မီးလှုံလျက် ရပ်
ကြ၏။ ပေတရုသည်လည်း၊ သူတို့နှင့်တကွရပ်၍
မီးလှုံလျက်နေ၏။
၁၉ ထိုအခါ ယဇ်ပုရောဟိတ် မင်းသည် တပည့်
တော်တို့ကိုငင်၊ ဒေသနာတော်ကိုငင်အကြောင်း
၂၀ ပြု၍ ယေရှုကိုမေးမြန်း၏။ စစ်ကြော၏။- ယေရှုက
လည်း၊ ငါ သည် လော က၌ ထင်ရှား စွာ ဟော
ပြောပြီ၊ ယုဒလူအပေါင်းတို့စည်းဝေးရာ တရား
ဇရပ်၌ ငင်၊ ဗိမာန်တော်၌ ငင်၊ အစဉ် မပြတ်
ဆုံးမ ဩဝါဒပေးပြီ၊ မထင်ရှားဘဲအလျှင်းမဟော
၂၁ မပြော။-အဘယ်ကြောင့်ငါ့ကိုမေးမြန်းသနည်း။
ငါသည်အဘယ်သို့ဟောပြောသည်ကိုကြားရ
သော သူ တို့ ကို မေး မြန်း လော့။ ငါ ပြော သော
စကားကိုထိုသူတို့သည် သိကြ၏ဟု မိန့် တော်မူ
၂၂ ၏။- ထိုသို့မိန့်တော်မူလျှင်၊ အနီးအပါး၌ရပ်နေ
သောမင်းလုလင်တယောက်က၊ သင်သည်ယဇ်
ပုရောဟိတ် မင်း ကို ဤ သို့ ပြန်ပြော ရာ သ လော
၂၃ ဟုဆိုလျက်၊ ယေရှုကို ရိုက်လေ၏။- ယေရှုက
လည်း၊ ငါ့စကားမမှန်လျှင် မမှန်ကြောင်းကို ပြ
ပါ။ မှန်လျှင်ငါ့ကို အဘယ်ကြောင့် ရိုက်သနည်း
၂၄ ဟုမိန့်တော်မူ၏။- အနှုတ်မင်းသည်ကိုယ်တော်
ကိုချည်နှောင်လျက်ရှိသည်အတိုင်း၊ ယဇ်ပုရော
ဟိတ်မင်းကယာဖထံသို့ပို့စေခဲ့ပြီ။
၂၅ ရှိမုန်ပေတရုသည်ရပ်၍မီးလှုံလျက်နေသည်
တွင်အနီးရှိသောသူတို့က၊ သင်သည်သူ၏တပည့်
တို့ အဝင်ဖြစ်သည် မဟုတ်လောဟု မေးလျှင်၊ မ
၂၆ ဟုတ်ဘူးဟု ပေတရုငြင်းလေ၏။- ပေတရု ခုတ်
၍ နားရွက်ပြတ်သော သူ နှင့် ပေါက်ဖော်တော်
သော၊ ယဇ်ပုရောဟိတ်မင်း၏ ကျွန်တယောက်

ကာ၊ ထင်ထည်ဝယည့်၌ ယေရှုနှင့်အတူရှိသည်
၂၇ ကိုငါမြင်ခဲ့ပြီမဟုတ်လောဟု ဆိုလျှင်၊- ပေတရု
သည် တဖန် ငြင်းပြန် သော်၊ ထို ခဏ ချင်း ကြက်
တွန်တွန်၏။
၂၈ နံနက်အချိန် ရောက်လျှင်၊ ယေရှုကိုကယာဖ
ထံမှအိမ်တော်ဦးသို့ဆောင်သွားကြ၏။ ထိုသူတို့
သည်အညစ်အကြေးနှင့်ကင်းလွတ်၍ ပသခါပွဲကိုခံရ
မည်အကြောင်း၊ အိမ်တော်ဦးထဲသို့ ကိုယ်တိုင်
၂၉ မဝင်ကြ။-ထိုကြောင့်၊ ပိလတ်မင်းသည်သူတို့ရှိ
ရာသို့ထွက်၍၊ ဤသူ၌အဘယ်အပြစ်ကိုတင်ကြ
၃၀ သနည်းဟုမေးသော်၊- ဤသူသည်လူဆိုးမဟုတ်
လျှင်၊အကျွန်ုပ်တို့သည်ကိုယ်တော်၌မအပ်ပါဟု
၃၁ လျှောက်ကြ၏။- ပိလတ်မင်းကလည်း၊သူကိုယူ
၍သင်တို့ဓမ္မသတ်အတိုင်းစီရင်ကြဟု ဆို၏။ယုဒ
လူတို့ကလည်း၊ အကျွန်ုပ် တို့ သည် အ ဘယ် သူ
၃၂ ကိုမျှ မသတ်ပိုင်ပါ ဟု လျှောက် ကြ ၏။- ထိုသို့
လျှောက်သော်၊ ယေရှုသည်အဘယ်သို့ မိမိသေ
ရမည်အရိပ်ကို ပေး၍၊ မိန့်တော်မူသောစကား
တော်ပြည့်စုံ ည်အကြောင်းတည်း။
၃၃ ပိလတ် မင်းသည် အိမ်တော် ဦးထဲသို့ တဖန်
ဝင်၍ ယေရှုကိုခေါ်ပြီးလျှင်၊ သင်သည်ယုဒရှင်
၃၄ ဘုရင် မှန်သလောဟုမေး၏။- ယေရှု ကလည်း၊
မင်းကြီးသည် ကိုယ်အလိုအလျောက် ဤသို့မေး
သလော၊ သို့မဟုတ်၊ သူတပါးတို့သည် ငါ၏ အ
ကြောင်းကို လျှောက်ကြပြီလောဟု မေးတော်မူ
၃၅ ၏။-ပိလတ်မင်းက၊ငါသည်ယုဒလူဖြစ်သလော။
သင်၏ လူမျိုးနှင့်တကွ ယဇ်ပုရောဟိတ် အကြီး
တို့သည် သင့်ကို ငါ၌ အပ်ကြပြီ။ သင်သည် အ
၃၆ ဘယ်သို့ပြုမိသနည်းဟုမေးလျှင်၊-ယေရှုက၊ငါ
၏နိုင်ငံသည် ဤလောကနှင့်မစပ်ဆိုင်။ ငါ၏နိုင်ငံ
သည်ဤလောကနှင့်စပ်ဆိုင်လျှင်၊ ငါသည် ယုဒ
လူတို့ ထက်သို့ မရောက်စေခြင်း ငှါ ငါ၏ လူ တို့
သည်တိုက်ဒုန်ကြလိမ့်မည်။ ယခုမူကား၊ ငါ၏
နိုင်ငံသည် ဤ ဒေသ အရပ် နှင့် မစပ် ဆိုင် ဟုမိန့်
၃၇ တော်မူ၏။- ပိလတ်မင်းကလည်း၊ ့သို့ဖြစ်လျှင်၊
သင်သည် ရှင်ဘုရင် မှန်သလောဟု မေး သော်၊
ယေရှုက၊ မင်းကြီး မေးသည် အတိုင်း၊ ငါ သည်
ရှင်ဘုရင်မှန်၏။သမ္မာတရားထက်၌ သက်သေခံ
ခြင်းငှါ၊ငါသည်ဖွားမြင်းခြင်းကိုခံ၍ဤလောကသို့
သို့ကြွလာပြီ။သမ္မာတရားနှင့်စပ်ဆိုင်သမျှသော
သူတို့သည် ငါ၏စကားကို နားထောင်ကြသည်ဟု
၃၈ မိန့်တော်မူ၏။- ပိလတ်မင်းကလည်း၊သမ္မာတရား

ဟူသောအရာသည်အဘယ်နည်းဟုမေးပြီးမှ တဖန်ယုဒ
လူရှိရာသို့ထွက်၍၊ ဤသူ၌ အဘယ်အပြစ်ကိုမျှ
၃၉ ငါမတွေ့။- ပသခါပွဲ၌ လူ တယောက်ကိုသင်တို့
အား ငါလွှတ်မြဲ ထုံးစံ ရှိသည် ဖြစ်၍၊ ယုဒ ရှင်
၄၀ ဘုရင်ကို လွှတ်စေချင်သလောဟုမေးလျှင်၊- ထ
ဖန်လူအပေါင်းတို့က၊ ဤသူကိုမလွှတ်စေချင်ပါ။
ဗာရဗ္ဗကို လွှတ်စေ ချင် ပါသည်ဟု အော်ဟစ်၍
လျှောက်ဆိုကြ၏။ ထိုဗာရဗ္ဗကားသူခိုးဖြစ်သ
တည်း။

၁၉

၁ ထိုအခါ ပိလတ်မင်းသည်ယေရှုကို ယူ၍ရိုက်
၂ ပြီးမှ၊- စစ်သူရဲတို့သည်ဆူးပေါင်းနှင့်ရက်သောဦး
ရစ်ကိုခေါင်းတော်၌တင်၍၊ နီမောင်းသောဝတ်
၃ လုံနှင့် ချုံစေပြီး လျှင်၊- ယုဒ ရှင်ဘုရင်၊ ကိုယ်
တော် သည် မင်္ဂလာရှိစေသတည်းဟုဆို၍ ရိုက်
၄ ပုတ်ကြ၏။- ပိလတ် မင်းကလည်း၊ ဤသူ၌ အ
ဘယ်အပြစ်ကိုမျှငါမတွေ့ကြောင်းကိုသင်တို့သိ
စေခြင်းငှါ၊သူကိုသင်တို့ရှိရာသို့ငါထုတ်ပြသည်
၅ ဟုဆို၏။- ထိုအခါယေရှုသည်ဆူးပေါင်းဦးရစ်နှင့်နီ
မောင်းသောဝတ်လုံကိုဝတ်လျက်ပြင်သို့ထွက်
ကြွတော်မူ၏။ပိလတ်မင်းကလည်း၊သူကိုကြည့်
၆ ကြလော့ဟုဆို၏။- ယဇ်ပုရောဟိတ် အကြီးတို့
နှင့်လုလင်များတို့က၊ထိုသူကိုလက်ဝါးကပ်တိုင်
မှာရိုက်ထားပါ၊ ရိုက်ထားပါဟု ဟစ်ကြော်ကြ
၏။ပိလတ်မင်းက၊သင်တို့သည်သူကိုယူ၍လက်
ဝါးကပ်တိုင်မှာ ရိုက်ထားကြ။ ငါသည်သူ၌ အ
၇ ပြစ်ကို မတွေ့ဟု ဆိုလျှင်၊- ယုဒ လူတို့က၊ ဤသူ
သည်ဘုရားသခင်၏သားတော်ဖြစ်ရောင်ဆောင်
သောကြောင့်၊ အကျွန်ုပ်တို့၌ရှိသော ဓမ္မသတ်အ
တိုင်းသေထိုက်ပါသည်ဟုလျှောက်ကြ၏။
၈ ထိုစကားကိုကြားလျှင် ပိလတ်မင်းသည်အလ
၍ ကြောက်သဖြင့်၊ အိမ်တော်ဦးထဲသို့ ဝင်ပြန်
၉ ၍၊- ယေရှုအား၊ သင်သည်အဘယ်က ဖြစ်လာ
နည်းဟု မေးလျှင်၊ တခွန်းကိုမျှ ပြန်တော်မမူ။-
၁၀ ပိလတ်မင်းက ထည်း၊ ငါ နှင့် စကား မပြောသ
လော၊ငါသည်သင့်ကိုလက်ဝါးကပ်တိုင်မှာရိုက်
ထားပိုင်သည်ကိုငှင်၊ လွှတ်ပိုင်သည်ကိုငှင် သင်
၁၁ မသိသလောဟုဆိုသော်၊- အထက်အရပ်မှ အခွင့်
ကိုမရလျှင် မင်းကြီးသည် ငါ့ကို အဘယ်သို့မျှ မ
ပြုပိုင်။ ထိုကြောင့်၊ ငါ့ကိုမင်းကြီးထက်သို့အပ်နှံ
သော သူသည် သာ၍ ကြီးသော အပြစ် ရှိ သည်
၁၂ ဟုမိန့်တော်မူ၏။-ထိုအခါမှစ၍ပိလတ်မင်းသည်

ကိုယ်တော်ကို ဖွတ်ခြင်းငှါ ရှာကြံလေ၏၊ ယုဒ
လူတို့က ထည်း၊ ထိုသူကို ဖွတ်လျှင်၊ ကိုယ်
တော်သည် ကဲသာ ဘုရင်၏ အဆွေ မဟုတ်ပါ၊
ရှင်ဘုရင် လုပ်သောသူမည်သည်ကား၊ ကဲသာ
ဘုရင်၏ရန်သူဖြစ်ပါသည်ဟုလျှောက်ကြ၏၊
၁၃ ထို စကား ကို ကြား လျှင် ပိ လတ် မင်း သည်
ယေရှုကို ပြင်သို့ထုတ်ပြီးမှ၊ ဟေဗြဲ စကားအား
ဖြင့်ဂဗ္ဗသအမည်ရှိ၍ကျောက်ခင်းဟု ခေါ်ဝေါ်
သောအရပ်၌ တရားပလ္လင်ပေါ်မှာထိုင်လေ၏၊-
၁၄ ထိုနေ့အမှုန်ကား၊ပသခါအဖိတ်နေ့၊တချက်တီး
အမှုန် ထောက်ရှိ၏၊ ပိလတ်မင်းကလည်း၊ သင်
တို့၏ ရှင်ဘုရင်ကိုကြည့်ကြလော့ဟု၊ ယုဒလူတို့
၁၅ အားပြောဆိုလျှင်၊-ထိုသူကိုထုတ်ပါ၊ထုတ်ပါ၊
လက်ဝါးကပ်တိုင် မှာ ရိုက် ထား ပါဟု၊ လူများ
အော်ကြ၏၊ ပိလတ်မင်းကလည်း၊ သင်တို့
၏ရှင်ဘုရင်ကို လက်ဝါးကပ်တိုင် မှာ ရိုက်ထား
ရမည်လောဟု မေးပြန်လျှင်၊ ယဇ်ပရောဟိတ်
အကြီးတို့က၊ ကဲသာဘုရင်မှတပါး
အထယ် ရှင်ဘုရင်မျှမရှိပါဟု ပြန်ပြော ကြ၏၊-
၁၆ ထိုအခါပိလတ်မင်းသည်ယေရှုကိုလက်ဝါးကပ်
တိုင် မှာ ရိုက်ထား စေ ခြင်းငှါ ထိုသူတို့ လက် သို့
အပ်သဖြင့်၊ သူတို့ သည် ကိုယ် တော် ကို ယူ၍
ထုတ်သွားကြ၏၊
၁၇ ကိုယ် တော် သည် မိမိ လက်ဝါးကပ် တိုင် ကို
ထမ်းလျက် ဦးခေါင်း ခွံအရပ်ဟူ၍ တွင်သော
အရပ်သို့ထွက်တော်မူ၏၊ထိုအရပ်ကား၊ဟေဗြဲ
၁၈ စကားအားဖြင့်ဂေါလဂေါသအမည်ရှိ၏၊-ထိုအ
ရပ်၌ ကိုယ်တော်ကိုအခြားသောသူနှစ်ယောက်
နှင့်တကွ လက်ဝါးကပ်တိုင်မှာ ရိုက်ထားကြ၏၊
ထိုသူနှစ်ယောက်အထယ်မှာယေရှုသည်နေရာ
၁၉ ကျသတည်း၊- ပိလတ်မင်းသည်ထည်း...မှည်း
လိပ်စာကိုရေး၍ လက်ဝါးကပ်တိုင်တော်၌တပ်
ထေ၏၊လိပ်စာချက်ဟူမူကား၊ယုဒရှင်ဘုရင်၊နာ
ဇရက် မြို့သား ယေရှု ထု ရေးထား သတည်း၊-
၂၀ ယေရှုကိုလက်ဝါးကပ်တိုင်မှာရိုက်ထားသော
အရပ်သည်မြို့နှင့် နီးသည်ဖြစ်၍၊ ထိုလိပ်စာကို
ဟေဗြဲဘာသာ၊ ဟေလသဘာသာ၊ ရောမဘာ
သာအားဖြင့်ရေးထားသောကြောင့်ယုဒလူများ
၂၁ တို့သည်ဖတ်ကြ၏၊-ထိုကြောင့်၊ယုဒယဇ်ပရော
ဟိတ် အကြီးတို့သည် ပိလတ်မင်း ထံသို့ဝင်၍၊
ယုဒ ရှင်ဘုရင်ဟု မရေးပါနှင့်၊ ငါသည်ယုဒရှင်
ဘုရင်ဖြစ်သည်ဟုသူဆိုကြောင်းကိုရေး တော်မူ
၂၂ ပါဟုလျှောက်ကြလျှင်၊- ပိလတ်မင်းက၊ငါရေး
ပြီးသောအရာကိုငါရေးပြီဟုပြန်ဆို၏၊
၂၃ စစ်သူရဲတို့သည်ယေရှုကို လက်ဝါးကပ်တိုင်
၌ ရိုက်ထားပြီးမှ၊ အဝတ်တော်တို့ကို လေးပိုင်း
ပိုင်း၍ တ ယောက် တပိုင်း စီယူ ကြ လေ၏၊ အ
တွင်းအင်္ကျီတော်ကား၊ မချုပ်ဘဲလျက် အထက်
စွန်းမှသည် အောက်စွန်း တိုင်အောင် ရက်သော
၂၄ အင်္ကျီဖြစ်သောကြောင့်၊-ထိုသူတို့က၊အင်္ကျီကိုမ
ဆုတ်ကြနှင့်၊ အဘယ်သူ ယူရမည် ကိုစာရေးတံ
ချကြကုန်အံ့ဟု၊ အချင်းချင်းဆိုကြ၏၊ ကျမ်းစာ
လာသည်ကား၊ သူတို့သည် အကျွန်ုပ်အဝတ်ကို
အချင်းချင်းဝေဖန်၍၊ အကျွန်ုပ်အင်္ကျီကို စာရေး
တံ ချကြပါ၏ ဟူသော အချက် စကားကို ပြည့်စုံ
စေ၍၊စစ်သူရဲတို့သည်ထိုသို့ပြုကြ၏၊
၂၅ ယေရှု၏လက်ဝါးကပ်တိုင်တော်နားမှာ မယ်
တော်နှင့်မယ်တော်၏ ညီမဖြစ်သောကလောပ၏
မယား မာရိ နှင့် မာဂဒလ မာရိတို့ သည် ရပ် နေ
၂၆ ကြ၏၊- ထိုအခါမယ်တော်နှင့် ချစ် တော်မူသော
တပည့် တော်သည် အနား မှာ ရပ်နေ သည် ကို
ယေရှုသည်မြင်တော်မူလျှင်၊ မယ်တော်အား၊အ
၂၇ ချင်းမိန်းမ၊ သင်၏သားကို ကြည့်ပါတု၍ဇင်၊- ထ
ပည့်တော်အားလည်း၊သင်၏အမိကိုကြည့်ပါတု
၍ဇင်မိန့်တော်မူ၏၊ထိုအခါမှစ၍ထိုတပည့်တော်
သည်မယ်တော်ကိုမိမိအိမ်၌သိမ်းထား၏။
၂၈ ထိုနောက်မှကျမ်းစာပြည့်စုံစေခြင်းငှါ အမှုခပ်
သမ္မာကုန်စင်ပြီးသည်ကိုသိတော်မူလျှင်၊ရေတော်
၂၉ သည်ဟုမိန့်တော်မူ၏၊- ထိုအရပ်၌ပုံးရည်နှင့်
ပြည့်သော အိုးတလုံးရှိသည် ဖြစ်၍၊ ထိုသူတို့
သည် ရေမြှုပ် တခုထွေးကို ပုံးရည်နှင့် ပြည့် စေပြီး
လျှင်၊ ဟုဿုပ်ပင်အကိုင်းဖျားနှင့်တပ်၍ခံတွင်း
၃၀ တော်သို့ ကပ်ထားကြ၏၊- ယေရှုသည် ပုံးရည်
ကိုခံပြီးမှ၊အမှုပြီးပြီဟုမိန့်တော်မူလျက်၊ ခေါင်း
တော်ကိုငိုက်ဆိုက်ညွှတ်၍ အသက်တော်ကိုစွန့်
တော်မူ၏၊
၃၁ ထိုနေ့သည်အဖိတ်နေ့ဖြစ်၍၊နက်ဖန်နေ့ထည်း
ကြီးမြတ်သော ဥပုသ်နေ့ဖြစ်သည်ကို ယုဒလူတို့
သည်ထောက်၍၊အလောင်းကောင်တို့ကိုဥပုသ်
နေ့၌ လက်ဝါးကပ် တိုင်ပေါ်မှာ မရှိ စေခြင်း ငှါ၊
ပိလတ်မင်းထံသို့ဝင်ပြီးလျှင်၊ခြေကိုချိုး၍ထိုအ
လောင်းကောင်တို့ကို ယူသွားရမည်အကြောင်း၊
၃၂ အခွင့်တောင်းကြ၏၊- ထိုအခါစစ်သူရဲတို့သည်
သွား၍၊ကိုယ်တော်နှင့်အတူလက်ဝါးကပ်တိုင်

မှာ ရိုက်ထားသော သူနှစ်ယောက် ထို၏ ခြေကို
၃၃ ချိုးလေ၏။- ယေရှုထံသို့ရောက်၍ အသက်မရှိ
၃၄ ကြောင်းကို မြင်လျှင် ခြေကိုမချိုးသဲ။- စစ်သူရဲ
တယောက်သည်နံတော်ကိုလှံနှင့်ထိုးခေါက်
၃၅ ၍၊ သွေးနှင့်ရေသည်ချက်ချင်းထွက်လာ၏။- ထို
အကြောင်းအရာကိုမြင်သောသူသည်သက်သေ
ခံ၏၊ သူ၏သက်သေခံချက်သည်လည်းမှန်စေ၏၊
သင်တို့သည်ယုံကြည်မည်အကြောင်း၊သူပြော
၃၆ သောစကားမှန်သည်ကိုသူသိ၏။- ထိုအကြောင်း
အရာကား၊ သူ၏ အရိုးကို မချိုးရဟု၊ ကျမ်းစာ
၃၇ လာချက်ပြည့်စုံမည်အကြောင်းတည်း။-တဖန်
ကျမ်းစာ ထားသည် ကား၊ ထိုသူတို့သည် မိမိတို့
ထိုးခေါက်သော သူကို ရှုမြင်ရကြလိမ့်မည်ဟု
ထား၏။
၃၈ ထိုနောက်မှ အရိမသဲမြို့သား ယောသပ်သည်
ယုဒ လူတို့ကို ကြောက်၍ မ ထင် မ ရှား တပည့်
တော်ဖြစ်သည်နှင့်၊ပိလတ်မင်းထံသို့ဝင်၍ယေရှု
၏ အလောင်းတော်ကို ယူသွားမည်အကြောင်း
အ ခွင့်တောင်း၏၊ ပိလတ်မင်း အ ခွင့် ပေးလျှင်၊
ထိုလူသည်သွား၍ ယေရှု၏အလောင်းတော်ကို
၃၉ ယူ လေ၏။- ည ထက် က ညဉ့် အခါ ယေရှုထံ
တော်သို့ လာသော နိကောဒင်သည်လည်း၊ အ
နှစ် သုံး ဆယ်မျှ လောက် အချိန် ရှိသော မုရန်
နှင့် အကျော်ကို ရောနှောသော နံ့သာပေါင်း ကို
၄၀ ဆောင်လျက်လာ၏။- ထိုသူတို့သည်ယေရှု၏အ
လောင်းတော်ကို ယူ၍၊ ယုဒ လူတို့၏ သင်းဂြိုဟ်
ခြင်းနှင့်ဆိုင်သောပွင်ဆင်ခြင်းထုံးစံရှိသည့် အ
တိုင်း၊ နံ့သာမျိုး နှင့် တကွ ပိတ် ဝုဆိုး၊ ဖြင့် အ
၄၁ လောင်း၊ တော်ကိုပတ်ရစ်ကြ၏။- လက်ဝါးကပ်
တိုင်မှာရိုက်ထားသောအရပ်တွင် ဥယျာဉ်ရှိ၏၊
ထို ဥယျာဉ်၌ တ ယောက် ကိုမျှ မသင်းဂြိုဟ်သေး
၄၂ သော သင်းချိုင်းတွင်းသစ်ရှိ၏။- ယုဒလူတို့၏ အ
ဖိတ်နေ့ ဖြစ် သော ကြောင့်၊ အနီး အပါး တွင် ရှိ
သော ထိုသင်းချိုင်းတွင်း၌ အလောင်း တော်ကို
ထားကြ၏။

## ၂၀

၁ ခုနှစ်ရက်တွင် ပဌမ နေ့ရက်၊ မိုး၊ မလင်းမှီ
မှောင်သောအချိန်၌မာဂဒလမာရိသည်သင်း၊ချိုင်း၊
တော် သို့ သွား၍ တွင်း၀၌ ပိတ် သော ကျောက်
၂ သည် ရွေ့လျက်ရှိသည်ကိုမြင်လျှင်၊- ရှိမုန်ပေ
တရုနှင့်၊ ယေရှုချစ်တော်မူသောအခြား၊တပည့်
တော် ဆီသို့ ပြေး၊ သွား၍၊ သင်း၊ ချိုင်း၊ တော်မှ
သခင်ကို ယူ သွားကြပြီ၊ အ ဘယ်မှာ ထား ကြ
၃ သည်ကိုမသိဟုပြောဆို၏။- ထိုအခါပေတရုနှင့်
အခြားသော တပည့်တော်သည် ထွက်၍ သင်း
၄ ချိုင်းတော်သို့သွားကြ၏။-ထိုသူနှစ်ယောက်တို့
သည် အတူပြေးသည်တွင် အခြားသောတပည့်
တော်သည်ပေတရုကိုလွန်၍သင်းချိုင်းတော်သို့
အရင်ရောက်သည် ရှိသော်၊ ငုံ့၍ကြည့်သဖြင့်၊-
၅ ပိတ်ဝုဆိုး၊ ရှိရစ်သည်ကို မြင်လျှင်၊ မဝင်ဘဲ နေ
၆ ၏။-ရှိမုန်ပေတရုသည်နောက်သို့လိုက်၍ရောက်
သောအခါတွင်း၊ထဲသို့ဝင်လျှင်၊ ပိတ်ဝုဆိုး၊ရှိရစ်
၇ သည်ကိုင်၎င်း၊- ခေါင်း၊တော်၌ရှိသောပဝါသည်
ပိတ်ဝုဆိုး၊နှင့်အတူမရှိဘဲ တခြား၊ခြံလိပ်လျက်ရှိ
၈ သည်ကိုင်၎င်း မြင်လေ၏။- ထိုအခါ သင်း၊ ချိုင်း၊
တော်သို့အရင်ရောက်သောအခြား၊တပည့်တော်
၉ သည်ဝင်၍ မြင်သဖြင့်ယုံလေ၏။- ကိုယ်တော်
သည်သေခြင်း၊မှထမြောက်ရမည်ဟူသောကျမ်း
စကား၊ကို တပည့် တော်တို့သည် နား၊မလည်ကြ
၁၀ သေး၊၊- နောက်မှထိုသူနှစ်ယောက်တို့သည် မိမိ
တို့အပေါင်း၊အဆောင်၊ရှိရာသို့ပြန်သွား၊ကြ၏။
၁၁ မာရိသည်သင်း၊ချိုင်းတော်အနား၊မှာ ငိုကြွေး
လျက်ရပ်နေ၏၊ငိုကြွေး၊စဉ်ငုံ့၍ တွင်းထဲသို့ကြည့်
၁၂ လျှင်၊- ကောင်း၊ကင် တမန် နှစ် ပါး ထို့ သည် ဖြူ
သော အဝတ်ကို ဝတ် ဆင် လျက်၊ ယေရှု၏ အ
လောင်းတော်လျောင်း၊ရာအရပ်၊ ခေါင်းရင်း၌တ
ပါး၊၊ခြေရင်း၌တပါးထိုင်ကြသည်ကိုမြင်လေ၏။-
၁၃ ထိုသူတို့က၊ အချင်း၊မိန်းမ၊ အဘယ်ကြောင့်ငိုကြွေး
သနည်း၊ဟုမေးလျှင်၊ ကျွန်ုပ်၏သခင်ကို ယူသွား
ကြပြီ၊ အဘယ်မှာ ထား၊ကြသည်ကို မသိပါဟု
၁၄ ပြောဆို၏၊- ထိုသို့ဆိုပြီးမှနောက်သို့လှည့်လျှင်၊
ယေရှု ရပ် လျက် နေတော်မူသည် ကို မြင်သော်
၁၅ လည်း၊ယေရှုဖြစ်တော်မူသည်ကိုမသိ၊- ယေရှု
ကလည်း၊၊အချင်း၊မိန်းမ၊အဘယ်ကြောင့်ငိုကြွေးသ
နည်း၊၊ အဘယ်သူကိုရှာသနည်း၊ဟု မေးတော်မူ
၏၊ မာရိကား၊သခင်သည် သူကို ဆောင်သွား၊သည်
မှန်လျှင် အဘယ်မှာထား၊သည်ကို ကျွန်ုပ်အား၊
ပြောပါ၊ကျွန်ုပ်ယူသွားပါမည်အရှင်ဟု၊ ထိုသူကို
ဥယျာဉ်စောင့်ဖြစ်သည်ဟုထင်မှတ်လျက် ဆို၏။-
၁၆ ယေရှုကလည်း၊၊ မာရိဟုခေါ်တော်မူလျှင်၊မာရိ
သည်လှည့်၍ ရဗ္ဗုနိဟုလျှောက်လေ၏၊ ရဗ္ဗုနိအနက်
၁၇ ကား၊၊ အရှင်ဘုရားဟု ဆိုလိုသတည်း၊- ယေရှု
ကလည်း၊၊ ငါကိုမတက်နှင့်ဦး၊၊ ငါသည် ငါ့ခမည်း
တော်ထံသို့မတက်ရသေး၊၊ ငါ၏ညီတို့ရှိရာသို့သွား

ထော့၊ ငါ၏ခမည်းတော်တည်းဟူသောသင်တို့
၏ခမည်းတော်၊ ငါ၏ဘုရားသခင်တည်းဟူသော
သင်တို့၏ဘုရားသခင် ထံတော်သို့ ငါတက်ရ
မည်အကြောင်းအရာကို ကြားပြောလော့ဟု မိန့်
၁၈ တော်မူသည် နှင့်အညီ၊- မာဂဒလမာရိသည်
သွား၍မိမိသည် သခင်ကိုတွေ့မြင် သည်ကိုရင်၊
ထိုသို့မိန့်တော်မူသည်ကိုရင်၊ တပည့်တော် တို့
အား ကြားပြောလေ၏။
၁၉ ခုနစ်ရက်တွင်ပဌမနေ့ရက်ဖြစ်သောထိုနေ့၌ည
အချိန်ရောက်သောအခါ၊ ယုဒလူတို့ကိုကြောက်
၍တံခါးများကို ပိတ်ထားလျက်၊ တပည့်တော်
တို့သည်စည်းဝေးကြသောအရပ်သို့ယေရှုသည်
ကြွလာ၍ အလယ်မှာရပ်တော်မူလျက်၊ သင်တို့
၌ငြိမ်သက်ခြင်းရှိစေသတည်းဟုမိန့်တော်မူ၏။-
၂၀ ထိုသို့မိန့်တော်မူပြီးမှ လက်တော်နှင့်နံဖေးတော်
ကိုပြတော်မူ၏။ တပည့်တော်တို့သည် သခင်ကို
၂၁ မြင်လျှင်ဝမ်းမြောက်ခြင်းရှိကြ၏။- တဖန်ယေ
ရှုက၊ သင်တို့၌ ငြိမ် သက် ခြင်းရှိ စေ သတည်း။
ခမည်းတော်သည် ငါ့ကို စေ လွှတ် တော် မူသည်
နည်းတူ၊ သင်တို့ကိုငါစေလွှတ်သဖြင့်ဟုမိန့်တော်
၂၂ မူပြီးလျှင်၊- ထိုသူတို့အပေါ်၌ မှုတ်လျက်၊ သင်
တို့သည် သန့်ရှင်းသော ဝိညာဉ် တော်ကို ခံကြ
၂၃ လော့။-အကြင်သူ၏အပြစ်ကိုသင်တို့လွှတ်လျှင်၊
ထိုသူသည် အပြစ်လွှတ်လျက်ရှိ၏။ အကြင်သူ၏
အပြစ်ကို သင်တို့တည်စေလျှင်၊ ထိုသူသည် အ
ပြစ်တည်လျက်ရှိ၏ဟု မိန့်တော်မူ၏။
၂၄ ထိုသို့ယေရှုသည် ကြွလာတော်မူသောအခါ
တမန်တော်တကျိပ်နှစ်ပါးအဝင်၊ဒိဒုမုဟုအမည်
ရှိသော သောမ သည် ထိုတပည့်တော်တို့နှင့်အ
၂၅ တူမရှိ။- ထိုသူတို့ကလည်း၊ အကျွန်ုပ်တို့သည်
သခင်ကို မြင်ရကြပြီဟု၊ သောမ အား ပြောဆို
ကြလျှင်၊သောမက၊လက်တော်၌သံရိုက်ရာချက်
ကိုမမြင်၊ သံရိုက်ရာချက်ကိုလက် ညှိုးနှင့် ပတို့မ
စမ်း၊ နံဖေးတော်ကိုလည်းလက်နှင့်မစမ်းမသပ်
၂၆ ရလျှင် အကျွန်ုပ်မယုံဟုဆို၏။- ထိုနောက်၊ ရှစ်
ရက် မြောက်သော နေ့၌ တပည့် တော်တို့ သည်
တဖန်အထဲမှာရှိကြ၍ သောမလည်းပါ၏။ တံခါး
များကိုပိတ်ထားစဉ်အခါ၊ ယေရှုသည်ကြွလာ
၍ အလယ်မှာ ရပ် တော် မူလျက်၊ သင် တို့၌ ငြိမ်
၂၇ သက်ခြင်းရှိစေသတည်းဟု မိန့်တော်မူ၏။- ထို
အခါ သောမအား၊ သင်၏လက်ညှိုးကိုဆန့်၍ ငါ
လက်ကိုကြည့်လော့၊ သင်၏လက်ကိုဆန့်၍ ငါ့နံ
ဖေးကို စမ်းသပ်လော့။ ယုံမှား ခြင်း မရှိနှင့်၊ ယုံ
၂၈ လော့ဟု မိန့် တော်မူ၏။- သောမ ကလည်း၊ အ
ကျွန်ုပ်၏ အရှင်၊ အကျွန်ုပ်၏ ဘုရားသခင် ပါ တ
၂၉ ကားဟုပြန်၍လျှောက်၏။-ယေရှုကလည်း၊ သင်
သည်ငါ့ကို မြင်သောကြောင့်ယုံခြင်းရှိ၏။ ငါ့ကိုမ
မြင်ဘဲယုံသောသူတို့သည်မင်္ဂလာရှိကြ၏ဟုမိန့်
တော်မူ၏။
၃၀ ဤကျမ်းစာ၌ရေး၍မထားသောအခြားနိမိတ်
လက္ခဏာ အ များ တို့ ကို လည်း ယေ ရှု သည်
တပည့်တော်တို့ ရှေ့ မှောက်၌ ပြ တော် မူ၏။
၃၁ ယေရှုသည် ခရစ်တော် တည်း၊ ဘုရား
သခင်၏ သားတော် ဖြစ်တော်မူသည်ကို သင်တို့
သည်ယုံမည်အကြောင်း၊ ယုံ၍ နာမတော်
အားဖြင့် အသက် ကို ရမည် အကြောင်း၊ ဤမျှ
လောက်ရေးထားလျက်ရှိသတည်း။

၂၁

၁ တဖန်ယေရှုသည် တိဗေရိအိုင်နားမှာ တပည့်
တော်တို့အား ကိုယ် ကို ပြတော်မူ၏။ ပြတော်မူ
၂ သည်အကြောင်းအရာဟူမူကား၊ ရှိမုန်ပေတရု
နှင့်ဒိဒုမုဟုအမည်ရှိသောသောမ၊ ဂါလိလဲပြည်
ကာနမြို့သား နာသနေလ၊ ဇေဗေဒဲ ၏ သားနှစ်
ယောက်၊ အခြားသောတပည့်တော်နှစ်ယောက်
၃ တို့သည်အတူရှိကြ၏။- ရှိမုန်ပေတရုက၊ကျွန်ုပ်
သည်ငါးဖမ်းသွားမည်ဟုဆိုလျှင်၊ထိုသူတို့က၊
အကျွန်ုပ်တို့လည်း လိုက်မည်ဟု ပြောဆိုသည်
နှင့် ထွက်သွားကြ၏။ ချက်ချင်းလှေထဲသို့ဝင်၍
၄ ထို ညဉ့် တွင် တ ကောင် ကိုမျှ မရ ကြ။- နံနက်
ရောက်သောအခါယေရှုသည် ကမ်းနားမှာရပ်
တော်မူ၏။သို့ရာတွင်၊ယေရှုဖြစ်တော်မူသည်ကို
၅ တပည့်တော်တို့သည်မသိကြ။-ယေရှုကလည်း၊
ချစ်သားတို့၊ စားစရာတစုံတခုရှိသလောဟု မေး
၆ တော်မူလျှင်၊ မရှိပါဟု ပြန်ပြော ကြ၏။- တဖန်
ယေရှုက၊ လှေလက်ျာဘက်၌ ပိုက်ကွန်ကိုပြစ်ချ
လော့။ ထိုသို့ ပြုလျှင် ရလိမ့်မည်ဟု မိန့်တော်မူ
သည်အတိုင်း၊ ထိုသူတို့သည် ပြစ်ချ၍ များစွာ
သောငါးတို့ကိုဖမ်းမိသောကြောင့်၊ပိုက်ကွန်ကို
ဆွဲ၍မရနိုင်။
၇ ထိုအခါ ယေရှုချစ်တော်မူသော တပည့်တော်
က၊ငါတို့သခင်ပေတည်းဟု၊ ပေတရုအားပြော
ဆို၏။ သခင်ဖြစ်ကြောင်းကို ရှိမုန်ပေတရု သည်
ကြားလျှင်၊ အဝတ်ကို မချုံဘဲ ရှိလျက် အပေါ်
အင်္ကျီကိုသာ ဝတ်စည်း၍၊ အိုင်ထဲသို့ ဆင်းလေ

၈ ၏။-အခြားသောတပည့်တော်တို့သည်ကမ်း၊နှင့်
မနီးမဝေး၊အလံငါးဆယ်လောက်ကွာသည်ဖြစ်
၍၊ငါးများနှင့်ပိုက်ကွန်ကိုဆွဲငင်လျက်လှေစီး၍
၉ လာကြ၏။- ကုန်းပေါ်သို့ရောက်သောအခါမီးခဲ
ပုံကိုဎင်၊ ကင်ထားသော ငါးကိုဎင်၊ မုန့်ကိုဎင်
၁၀ တွေ့မြင်ကြ၏။-ယေရှုကလည်း၊ယခုရသောငါး
၁၁ အချို့ကိုယူခဲ့ကြဟုမိန့်တော်မူ၏။-ရှိမုန်ပေတရု
သည်လှေပေါ်သို့တက်၍၊ ငါးကြီးတရာငါးဆယ်
သုံးကောင်နှင့် ပြည့်လျက် ရှိသော ပိုက်ကွန် ကို
ကုန်းပေါ်သို့ဆွဲတင်လေ၏။ ထိုမျှ လောက် များ
သော်လည်း ပိုက်ကွန်သည် မစုတ်မပြတ်ရှိ၏။-
၁၂ ယေရှုကလည်း၊လာ၍နံနက်စာကိုစားကြလော့
ဟု မိန့်တော်မူ၏။ သခင် ဖြစ်တော်မူကြောင်းကို
တပည့်တော်တို့သည်သိကြသောကြောင့်၊ကိုယ်
တော် သည် အဘယ် သူ နည်း ဟူ ၍ တ စုံ တ
၁၃ ယောက်မျှမမေးမလျှောက်ပံ့ကြ။- ယေရှုသည်
လာ၍ မုန့်နှင့်ငါးကိုယူပြီးလျှင်၊ သူတို့အားပေး
၁၄ တော်မူ၏။- ထိုပြတော်မူခြင်းကား၊ယေရှုသည်
သေ ခြင်း မှ ထ မြောက် တော် မူ သည် နောက်၊
တပည့်တော်တို့အား ကိုယ်ကိုသုံးကြိမ်မြောက်
သောပြတော်မူခြင်းဖြစ်သတည်း။
၁၅ နံနက်စာကို စားကြသည် နောက်၊ ယေရှုက၊
ယောနန်၏သားရှိမုန်၊ဤသူတို့သည်ငါ့ကိုချစ်သည်
ထက်သင်သည်သာ၍ ချစ်သလောဟု၊ ရှိမုန်ပေ
တရုအား မေးတော်မူလျှင်၊ ဟုတ်ပါ၏ သခင်၊
ကိုယ်တော်ကိုအကျွန်ုပ်ချစ်သည်ကို ကိုယ်တော်
သိတော်မူ၏ဟုလျှောက်သော်၊ ငါ၏သိုးသငယ်
၁၆ တို့ကို ကျွေး မွေး လော့ဟု မိန့်တော်မူ၏။- တဖန်
ယေရှုက၊ယောနန်၏သားရှိမုန်၊သင်သည်ငါ့ကိုချစ်
သလောဟု၊ ဒုတိယ အကြိမ် မေး တော် မူလျှင်၊
ဟုတ်ပါ၏ သခင်၊ ကိုယ်တော်ကို အကျွန်ုပ် ချစ်
သည်ကို ကိုယ်တော် သိတော်မူ၏ဟု လျှောက်
သော်၊ ငါ၏သိုးတို့ကို ထိန်း လော့ဟု မိန့်တော်မူ
၁၇ ၏။- ယေရှုကလည်း၊ ယောနန်၏သားရှိမုန်၊သင်
သည်ငါ့ကိုချစ်သလောဟု၊ တတိယအကြိမ် မေး
တော်မူလျှင်၊ သင်သည်ငါ့ကိုချစ်သလောဟု သုံး
ကြိမ် မြောက်အောင် မေးတော် မူသောကြောင့်
ပေတရုသည်စိတ်နာသဖြင့်၊ သခင်၊ ကိုယ်တော်
သည် ခပ်သိမ်းသော အရာတို့ကို သိတော်မူ၏။
ကိုယ်တော်ကိုအကျွန်ုပ်ချစ်သည်ကို ကိုယ်တော်
သိတော်မူ၏ဟု လျှောက်သော်၊ ယေရှုက၊ ငါ၏
၁၈ သိုးတို့ကို ကျွေးမွေးလော့။- ငါအမှန်အကန်ဆို
သည်ကား၊ သင်သည်ပျိုသော အသက် ရှိစဉ်၊
ကိုယ်ကိုကိုယ်ပတ်စည်း၍ အလိုရှိရာအရပ်ရပ်
သို့ သွားလာ တတ်၏။ သင်သည် အိုသောအခါ
လက်နှစ်ဖက်ကို ဆန့် ပြီးလျှင်၊ သူတပါး သည်
သင့်ကိုပတ်စည်း၍သင်အလိုမရှိရာအရပ်သို့ယူ
၁၉ သွားလိမ့်မည်ဟုမိန့်တော်မူ၏။ ထိုသို့မိန့်တော်
မူသော်၊အဘယ်သို့သောသေခြင်းအားဖြင့် ပေ
တရုသည်ဘုရားသခင်၏ဘုန်းတော်ကိုထင်ရှား
စေမည်အရိပ်ကို ပေးတော်မူ၏။ ထိုသို့ မိန့်တော်
မူပြီးမှ၊ငါ့နောက်သို့လိုက်လော့ဟု၊ ပေတရုအား
မိန့်တော်မူပြန်၏။
၂၀ ယေရှု ချစ်တော်မူ၍၊ အ လက် က ည စာ စား
သော အ ခါ၌ ရင် တော်ကို မှီ၍ လျောင်း လျက်၊
သခင်၊ ကိုယ်တော်ကို အပ်နှံ သော သူကား အ
ဘယ်သူနည်းဟု မေး သော တပည့်တော်သည်
လည်း၊ နောက်တော်သို့ လိုက်သည်ကို ပေတရု
၂၁ သည်လှည့်၍မြင်လျှင်၊- သခင်၊ဤသူ၌အဘယ်
သို့ဖြစ်ပါလိမ့်မည်နည်းဟုမေးလျှောက်သော်၊-
၂၂ ယေရှုက၊ငါကြွလာသည်ကာလတိုင်အောင်ထို
သူကိုနေစေခြင်းငှါ ငါအလိုရှိလျှင်၊သင်သည်အ
ဘယ်သို့ဆိုင်သနည်း။ သင်မူကား၊ ငါ့နောက်သို့
၂၃ လိုက်လော့ဟုမိန့်တော်မူ၏။-ထိုစကားတော်ကို
ထောက်လျှင်၊ ညီအစ်ကိုတို့က၊ ထိုတပည့်တော်
သည်မသေရဟု အနှံ့အပြားပြောဆိုကြ၏။ သို့
သော်လည်း၊ ထို သူသည် မသေရဟု ယေရှု မိန့်
တော်မူသည်မဟုတ်။ ငါကြွလာသည်ကာလတိုင်
အောင် ထိုသူကို နေ စေခြင်းငှါ ငါအလိုရှိလျှင်၊
သင်သည်အဘယ်သို့ဆိုင်သနည်းဟုမိန့်တော်မူ
သတည်း။
၂၄ ထိုတပည့်တော်ကား၊ ဤအကြောင်းအရာတို့
၂၅ ကိုသက်သေခံ၍ ရေးထားသောသူဖြစ်၏။- သူ
၏ သက်သေခံချက် မှန်သည်ကို ငါတို့သိကြ၏။
ယေရှုပြုတော်မူသော အခြားအမှုအရာအများရှိ
သေး၏၊ထိုအမှုအရာရှိသမျှတို့ကိုအသီးအခြား
ရေးထားလျှင်၊မြေကြီးမဆံ့နိုင်အောင်ကျမ်းစာ
များပြားလိမ့်မည်ဟုထင်မှတ်ခြင်းရှိ၏။

ရှင်ယောဟန်ခရစ်ဝင်ပြီး၏။

# တမန်တော်ဝတ္ထု။

## THE ACTS OF THE APOSTLES.

၁

၁ အိုသော်မိလုယေရှုသည်ရွေးကောက်တော်မူ
သောတမန်တော်တို့ကို ဝိညာဉ်တော်အားဖြင့်မှာ
၂ ထားပြီးမှ၊ အထက်သို့ဆောင်ယူခြင်းကိုခံတော်
မူသောနေ့ မရောက်မှီကာလတွင်၊ ပြုမူဆုံးမသွန်သင်
တော်မူထမျှတို့ကို ထုတ်ဖော်၍၊ အထက်လျှမ်း
၃ စာကို ငါစီရင်ရေးထားပါပြီ။– အသေခံတော်မူ
ပြီးလျှင်၊ တမန်တော်တို့အားအရက်လေးဆယ်
ပတ်လုံးကိုယ်ကိုပြ၍၊ ဘုရားသခင်၏နိုင်ငံတော်
နှင့် စပ်ဆိုင်သော အရာတို့ကို မိန့်မြွက် တော်မူ
လျက်၊ မိမိအသက်ရှင်သည်အကြောင်းကိုမှိုင်ခံ့
သော ထင်သေ အမှား အားဖြင့် ပြ တော်မူ၏။–
၄ ထို တမန်တော်တို့ကို စုဝေး စေ တော်မူပြီးလျှင်၊
ယေရုရှလင်မြို့မှမထွက်မသွားဘဲ၊ ခမည်းတော်
၏ဂတိကိုငံ့နေမည်အကြောင်း မှာတော်မူ၍၊ ထို
ဂတိတော်ကို ငါဟောပြောသဖြင့်သင်တို့သည်
၅ ကြားသိရကြပြီ။–ဂတိတော်အရွက်ယူမှုကား
ယောဟန်သည်ရေ၌ နှစ်ခြင်းကိုပေး၏၊ သင်တို့
သည်မကြာမမြင့်မှီသန့်ရှင်းသောဝိညာဉ်တော်၌
နှစ်ခြင်းကိုခံရကြလိမ့်မည်ဟုမိန့်တော်မူ၏။
၆ ထိုတမန်တော်တို့သည်ထည်းစုဝေး၍၊ သခင်
ဘုရား၊ ယခုအခါ ကိုယ်တော်သည် ဣသရေလ
အမျိုးသားတို့အား နိုင်ငံကို ပြန်ပေးတော်မူမည်
၇ လောဟုမေးလျှောက်ကြလျှင်၊–သခင်ဘုရားက၊
ခမည်းတော်၏ တန်ခိုး အား ဖြင့် စီရင် တော် မူ
သော အ ချိန် ကာလကို သိရသော အခွင့် သည်
၈ သင်တို့၌မရှိ။–ထိုသို့မရှိသော်လည်း၊ သင်တို့အ
ပေါ်သို့ သန့်ရှင်းသော ဝိညာဉ်တော် ဆင်းသက်
သောအခါ၊သင်တို့သည်တန်ခိုးကိုခံရ၍၊ ယေရု
ရှလင်မြို့မှစ၍ယုဒပြည်၊ရှမာရိပြည်၊မြေကြီး
စွန်းတိုင်အောင်၊ငါ၏သက်သေဖြစ်ကြလိမ့်မည်
၉ ဟုမိန့်တော်မူ၏။– တမန်တော်တို့သည် ကြည့်ရှု
လျက်နေကြစဉ်၊ သခင်ဘုရားသည်အထက်သို့
ဆောင်ယူခြင်းကို ခံတော်မူ၍၊ မိုဃ်းတိမ်သည်
၁၀ ကိုယ်တော်ကိုဖုံးကွယ်ဆောင်ခံယူလေ၏။–ထို
သို့ ကြွ တော်မူ သည် ကို တမန် တော် တို့ သည်
ကောင်းကင်သို့ စေ့စေ့ ကြည့်မျှော်လျက် နေကြ
စဉ်တွင်၊ ထူးခြားသောအဝတ်ဖြူတို့သည် ဖြူစင်သောအ
ဝတ်ကိုဝတ်ဆင်လျက် တမန်တော်တို့အနားမှာ
၁၁ ပေါ်လာ၍၊– အိုဂါလိလဲလူတို့၊ အဘယ်ကြောင့်
ကောင်းကင်သို့ကြည့်မျှော်လျက် နေကြသနည်း။
သင်တို့နှင့်ခွာ၍ ကောင်းကင်သို့ ဆောင်ယူခြင်း
ကို ခံတော်မူသော ထိုယေရှုသည်၊ သင်တို့ရှုထိ
မျှော်၍ ကောင်းကင်သို့ ကြွသွားတော်မူသည့်
နည်းတူ၊ တဖန် ကြွ လာ တော် မူလတံ့ဟု ပြော
ဆို၏။
၁၂ ထိုအခါ ယေရုရှလင်မြို့နှင့် ဥပုသ်နေ့ ခရီး
ခရီး သာကွာ၍ သံလွင် အမည်ရှိသောတောင်မှ
ယေရုရှလင်မြို့သို့တမန်တော်တို့သည်ပြန်ကြ၏–
၁၃ ရောက်ကြလျှင်၊ ပေတရု၊ ယာကုပ်၊ ယောဟန်၊
အန္ဒြေ၊ ဖိလိပ္ပု၊ သောမ၊ ဗာသောလမဲ၊ မဿဲ၊
အာလဖဲ၏သား ယာကုပ်၊ ဇေလုတ်ဟုခေါ်သော ရှိမုန်၊ ယာ
ကုပ်ညီယုဒတို့သည် တည်းနေရာ အိမ်အထက်
၁၄ ခန်းသို့ တက်ကြ၏။– ထိုသူ အ ပေါင်း တို့သည်
ယေရှု၏ မယ်တော်မာရိမှစ၍မိန်းမတို့နှင့်၎င်း၊ ညီ
တော်တို့နှင့်၎င်း၊ တညီတညွတ်တည်းကြိုးစား၍
ဆုတောင်းပဌနာပြုလျက်နေကြ၏။
၁၅ ထိုအခါအရေအတွက်အားဖြင့်တရာနှစ်ဆယ်
သောတပည့်တော်တို့၏အလယ်၌ ပေတရုသည်
၁၆ ထ၍၊–ညီအစ်ကိုတို့၊ ယေရှုကိုဖမ်းဆီးသောသူ
တို့အား ထမ်းပြသောယုဒရှကာရုတ်ကိုရည်မှတ်
၍၊ သန့်ရှင်းသောဝိညာဉ်တော်သည် ဒါဝိဒ်မင်း
၏နှုတ်ဖြင့် မှာဘိတ်ထား တော်မူနှင့်သောကျမ်း
၁၇ စာချက်အတိုင်းမပြည့်စုံဘဲမနေရ။– ထိုသူသည်
ငါတို့နှင့် ရေတွက်ဝင်ခြင်းသို့ ရောက်၍ စွဲအရာ
၁၈ ၏အရာကိုခံရပြီ။– ထိုသူသည်မတရားသောအ
မှုအတွက်ဖြင့် ရ သောအခ နှင့် မြေ တ ကွက် ကို
ဝယ်ပြီးမှ၊ မှောက်လျက်ကျလဲ၍ ဝမ်းကွဲသဖြင့်
၁၉ အူများပေါက်ထွက်ပြီ။– ထိုအကြောင်း အရာ
ကိုယေရုရှလင်မြို့၌ နေသောသူအပေါင်းတို့သည်
သိ၍မိမိတို့ဘာသာစကားဖြင့်ထိုမြေကို အကေလ
ဒမာဟုခေါ်တွင်ကြ၏၊ အနက်ကား သွေးမြေဟုဆို
၂၀ ထိုသတည်း။ ဆာလံကျမ်းစာ၌လာသည်ကား၊
သူ၏နေရာအရပ်သည်လူဆိတ်ညံ့ရာ အရပ်ဖြစ်

ပါစေ၊ နေသောသူ မရှိပါစေနှင့်၊ သူ၏အရာကို
အခြားသောသူ ရပါစေဟုရေးမှတ်သတည်း။-
၂၁ ထိုကြောင့်၊ ယောဟန်သည် နှစ်ခြင်းကိုပေးသော
၂၂ ကာလမှစ၍၊- သခင်ယေရှုသည် ငါတို့နှင့် ခွာ၍
အထက်သို့ ဆောင်ယူခြင်းကို ခံတော်မူသည်နေ့
ရက်တိုင်အောင်၊ တပည့်တော်တို့နှင့်အတူ ထွက်
ဝင်သွားလာတော်မူသော ကာလပတ်လုံး ငါတို့
နှင့် ပေါင်းဖော်၍ နေသော သူ တစုံ တယောက်
သည်၊ ထိုသခင် ထမြောက်တော်မူသည် အ
ကြောင်းကို ဟောပြော၍ ငါတို့နှင့် အတူ သက်
သေခံဖြစ်ရမည်ဟု ပေတရုပြောဆို၏။
၂၃ ဗာရှဗထုခေါ်ဝေါ်၍ ယုတ္တု အမည်သစ်ကို
၂၄ ရသော ယောသပ်နှင့် မဿိကိုခန့်ထား၍၊- ဤ
၂၅ သို့ ဆုတောင်းကြ၏၊ လူအပေါင်းတို့၏ စိတ်နှလုံး
ကို သိတော်မူသော သခင်ဘုရား၊ ယုဒရှကာ
ရုတ်သည် မိမိနေရာ အရပ်သို့ သွား၍ ထိုသောဌါ
နေ ဆရာ၏ အရာ၊ တမန်တော်၏ အရာမှ ရွေ
လျှော့ဖောက်ပြန်သည်ဖြစ်၍၊ ထိုအရာကို ခံစေ
ခြင်းငှါ၊ ဤသူ နှစ်ယောက်တို့တွင် ရွေးကောက်
တော်မူသော သူကို ပြသနာ်တော်မူပါ ဟု ဆု
၂၆ တောင်းပြီးမှ၊- စာရေးတံ ချကြသ ဖြင့် မဿိ
သည် စာရေးတံကို ရ၍၊ တကျိပ်တပါးသော
တမန်တော်တို့နှင့် ရေတွက် ဝင်ခြင်းသို့ ရောက်
လေ၏။

## ၂

၁ ပင်တေကုတ္တေ ပွဲနေ့ ရောက်သောအခါ၊ ထိုသူ
အပေါင်းတို့သည် တညီတညွတ်တည်း စည်းဝေး
၂ ၍နေကြ၏။- ထိုအခါ လေပြင်း တိုက်ခြင်း ကဲ့သို့
သောအသံသည် တခဏချင်း ကောင်းကင်မှ
လာ၍၊ ထိုသူတို့နေထိုင် သောအိမ်ကို ပြည့်စေ
၃ ၏။- ထိုခဏချင်းတွင် ကွဲပြားသော လျှာတို့သည်
မီးလျှာကဲ့သို့ ထင်ရှား၍၊ ထိုသူ အသီးအသီးတို့
၄ အပေါ်၌ တည်နေကြ၏။- ထိုသူ အပေါင်းတို့သည်
လည်း သန့်ရှင်းသော ဝိညာဉ်တော်နှင့် ပြည့်၍၊
ဝိညာဉ်တော်သည် ဟောပြောသော အခွင့်ကို
ပေးတော်မူသည်အတိုင်း၊ အမျိုးမျိုးသော ဘာ
သာစကားအားဖြင့် ဟောပြောကြ၏။
၅ ထိုကာလအခါ၊ ကောင်းကင်အောက်တွင်ရှိ
သမျှသော လူမျိုးထဲက တရားကို ကိုးကွယ်သော
ယုဒလူတို့သည် ယေရုရှလင်မြို့၌တည်းနေကြသ
၆ တည်း။- ထိုအသံကို ကြားရသောအခါ၊ လူများ
တို့သည် စုဝေး၍ သာကြလျှင်၊ အသီးသီး အခြား
ခြားသော မိမိတို့ ဘာသာစကားအားဖြင့် တမန်တော်
တို့ ဟောပြောသည်ကို ကြား၍ မှိုင်တွေ ချွတ်
၇ မိန်နေကြ၏။- ထိုလူ အပေါင်းတို့သည် ထိတ်လန့်
မိန်းမော တွေဝေလျက် ရှိ၍၊ ယခု ဟော ပြော
သော သူအပေါင်းတို့သည် ဂါလိလဲ လူဖြစ်ကြ
၈ သည်မဟုတ်လော၊- သို့ဟုတ်လျှင်၊ ငါတို့သည်
အသီးအသီး မွေးဖွားရာ ဌာန၏ ဘာသာစကား
၉ များကို ကြားရသည်ကား အဘယ်သို့နည်း။-ပါ
သိပြည်မှစ၍ မေဒိပြည်၊ ဧလံပြည်၊ မေသောပေါ
တာမိပြည်၊ ယုဒပြည်၊ ကပ္ပဒေါကိပြည်၊ ပုန္တု
၁၀ ပြည်၊ အာသိပြည်၊- ဖြုဂိပြည်၊ ပံဖုလိပြည်၊
အဲဂုတ္တုပြည်၌ နေသောသူ၊ ကုရေနေမြို့နှင့် စပ်
သော လိဗုကျေးလက်၌ နေသောသူ၊ ရောမမြို့မှ
လာသော ဧည့်သည်များ၊ ယုဒလူဖြစ်စေ၊ ယုဒ
၁၁ ဘာသာဝင်ဖြစ်စေ၊- ကရေတေ ပြည်သား၊ အာရပ်
ပြည်သား၊ အသီးအသီးဖြစ်ကြသော ငါတို့အား
ဤသူများသည် ဘုရားသခင်၏ ထူးဆန်းသော အမှု
တို့ကို၊ ငါတို့ အမျိုး ဘာသာ စကား ဖြင့် ဟော
ပြောကြသည်ကို ကြားရပါသည်တကားဟု၊ အ
၁၂ ချင်းချင်း ပြောဆိုကြ၏။- ထိုလူ အပေါင်းတို့သည်
မိန်းမော တွေဝေသော စိတ်ရှိသည်နှင့်၊ ဤအ
မှုအရာသည် အဘယ်သို့သော အမှုအရာဖြစ်သ
နည်းဟု၊ တယောက်ကိုတယောက် ပြောဆိုကြ
၁၃ ၏။- လူတစုတို့က၊ ဤသူတို့သည် ချိုသော စပျစ်
ရည်နှင့်ပြည့်ဝသည်ဟု ကဲ့ရဲ့ပြောဆိုကြ၏။
၁၄ ထိုအခါ တကျိပ်တပါးသော တမန်တော်တို့
နှင့်တကွ ပေတရုသည် ထ လျက်၊ ထိုသူတို့ကို
ကျယ်သော အသံနှင့် ဟောပြောသည်ကား၊
ယေရုရှလင်မြို့သားတို့နှင့် ယုဒလူအပေါင်းတို့၊
သင်တို့သည် ဤအရာကို သိမှတ်၍ စကားကို
၁၅ စေ့စေ့နားခံကြလော့။- ယခု အချိန်ကား၊ နံနက်
တချက်တီး အချိန်သာ ရှိသည် ဖြစ်၍၊ သင်တို့
ထင်သည်အတိုင်း ဤသူတို့သည် ယစ်မူးကြသည်
၁၆ မဟုတ်၊- ဤအရာကား ပရောဖက်ယောလဟော
၁၇ သော အရာ ဖြစ်သတည်း။- ဟောသူး ထော
အချက်ကား၊ နောင်ကာလ၌ လူရှိသမျှတို့အ
ပေါ်သို့ ငါ၏ ဝိညာဉ်တော်ကို ငါသွန်းလောင်းမည်၊
သင်တို့၏ သားသမီးတို့သည် ပရောဖက်ဉာဏ်နှင့်
ဟောပြောရကြလိမ့်မည်၊ အသက်ငယ်သော လူ
တို့သည် ဗျာဒိတ်ရူပါရုံတို့ကို မြင်ရကြလိမ့်မည်၊
အသက်ကြီးသော သူတို့သည်လည်း နိမိတ်အိပ်
၁၈ မက်တို့ကို မြင်မက်ရကြလိမ့်မည်။- ထိုကာလ

ရှိသမျှသော ဇာတိပကတိအပေါင်းကို သွန်းလောင်းမည်။
ထိုအခါ သင်တို့၏သားသမီးတို့သည် ပရောဖက်ပြုကြ
လိမ့်မည်။ လုလင်တို့သည် ဗျာဒိတ်ရူပါရုံကို မြင်
ကြလိမ့်မည်။ အသက်ကြီးသူတို့သည် အိပ်မက်များကို
မြင်ကြလိမ့်မည်။ ထိုကာလ၌ ငါ၏ ကျွန်ယောက်ျား၊ ကျွန်မိန်းမ
တို့အပေါ်သို့ ငါ၏ဝိညာဉ်တော်ကို ငါသွန်း
လောင်း၍၊ သူတို့သည် ပရောဖက်ဉာဏ်နှင့်
၁၉ ဟောပြောကြလိမ့်မည်။ အထက်မိုဃ်း
ကောင်းကင်၌ အံ့ဘွယ်သော အရာတို့ကို၎င်း၊
အောက်အရပ်မြေကြီးပေါ်၌ အသွေး၊ မီးလျှံ၊ မီးခိုး
ထည်းတည်းဟူသော ပုဗ္ဗနိမိတ်တို့ကို၎င်း ငါပြမည်။
၂၀ ထာဝရဘုရား၏ ထူးမြတ်သောနေ့ကြီးမရောက်မှီ၊
နေသည်မှောင်မိုက်အတိဖြစ်လိမ့်မည်။ လသည်
၂၁ အသွေးဖြစ်လိမ့်မည်။ ထိုအခါ ထာဝရ
ဘုရားကိုပဌနာပြုသောသူရှိသမျှတို့သည်ကယ်
တင်တော်မူခြင်းသို့ ရောက်ရကြလိမ့်မည်ဟု ဘုရား
သခင်မိန့်တော်မူ၏။

၂၂ ဣသရေလလူတို့၊ စကားကို နားထောင်ကြ
လော့။ သင်တို့သိကြသည်အတိုင်း၊ နာဇရက်မြို့
သားယေရှုသည် ထူးဆန်းသောတန်ခိုး၊ နိမိတ်
လက္ခဏာ၊ အံ့ဘွယ်သောအမှုတို့ကို သင်တို့တွင်
ပြုရသော အခွင့်နှင့်၊ ဘုရားသခင်ပေးတော်မူ
၂၃ သော ထက်သောကို ရသောသူဖြစ်၍၊ ဘုရား
သခင်ပြဌာန်းတော်မူသော အလိုတော်အားဖြင့်
၎င်း၊ အနာဂတ်ထဉာဏ်တော်အားဖြင့်၎င်း၊
အပ်နှံခြင်းကို ခံသောထိုယေရှုကို သင်တို့သည်
ဖမ်းဆီး၍၊ မတရားသော သူလက်ဖြင့် လက်
၂၄ဝါးကပ်တိုင်၌ မိုက်၍ ကွပ်မျက်ကြပြီ။ ထိုသူ
ကိုသေခြင်းဝေဒနာသည် အစဉ်ချုပ်နှောင်ချုပ်
ကိုင်၍ မဖြစ်နိုင်သည်နှင့်၊ ထိုဝေဒနာကို ဘုရား
သခင်သည် ဖြေလွှတ်ပယ်၍ ထမြောက်စေတော်မူ
၂၅ ပြီ။ ထိုသူကို အကြောင်းပြု၍ ဒါဝိဒ်မင်းကား၊
ငါသည် ထာဝရဘုရားကို အစဉ်မပြတ် မျက်
မှောက်ပြု၏။ အကြောင်းမူကား၊ ငါလှုပ်ရှားခြင်း
မရှိမည်အကြောင်း ငါ့လက်ျာဘက်၌ တည်ရှိတော်မူ
၂၆ သည်ဖြစ်၍။ ထိုကြောင့် ငါ့စိတ်နှလုံးသည်သာ
ယာခြင်း၊ ငါ့ပညာသည်ရွှင်လန်းခြင်းရှိ
၏။ ထိုမှတပါး၊ ငါ့အသားသည် မျှော်လင့်လျက်
၂၇ ကျိန်းဝပ်လိမ့်မည်။ အကြောင်းမူကား ကိုယ်
တော်သည် အကျွန်ုပ်၏ဝိညာဉ်ကိုမရဏာနိုင်ငံ၌
ပစ်ထားတော်မမူ။ ကိုယ်တော်၏ သန့်ရှင်းသော
သူအားလည်း ပုပ်စပ်ခြင်းကို ခံစေတော် မမူဘဲ
လျက်၊ အသက်ရှင်ခြင်းလမ်းကို ပြသနာတော်မူ
၂၈ လိမ့်မည်။ မျက်နှာတော်ကိုဖူးမြင်ရသောအား
ဖြင့်ဝမ်းမြောက်သောစိတ်နှင့် အကျွန်ုပ်ကိုပြည့်
စုံစေတော်မူလိမ့်မည်ဟု ဒါဝိဒ်ဆိုသတည်း။

၂၉ ညီအစ်ကိုတို့၊ ဘိုးဘေး ဒါဝိဒ်မင်း၏
အကြောင်းကိုငါသည် သင်တို့အား ပွင့်လင်းစွာ
ဆိုပြောပါရစေ။ ထိုဒါဝိဒ်သည်သေ၍၊ သင်္ချိုင်း
ပြုတ်သော်လည်း ယနေ့တိုင်အောင်ငါတို့၌ရှိ
၃၀ ၏။ ထိုသူသည်၊ ဇာတိပကတိအားဖြင့် သူ၏
ထိအသားမှဖြစ်သော သားတော်ကို ဘုရားသခင်ဖွား
မြင်စေ၍၊ ဒါဝိဒ်ပလ္လင်ပေါ်မှာ တင်တော်မူမည်
အကြောင်း ကျိန်ဆိုတော်မူသည်ကို ပရော
၃၁ ဖက်ဉာဏ်အားဖြင့် သိ၍၊ ခရစ်တော်၏ ထ
မြောက်ခြင်းအကြောင်းကိုရည်မှတ်လျက်၊ ထို
ခရစ်တော်၏ ဝိညာဉ်ကို မရဏာနိုင်ငံ၌ ပစ်
ထားတော်မမူ၊ အသားသည်လည်းပုပ်စပ်ခြင်း
သို့မရောက်ဟု အနာဂတ်သဉာဏ်နှင့် ဟော
၃၂ လေ၏။ ထိုယေရှုကိုဘုရားသခင်ထမြောက်စေ
တော်မူသည်ကို ငါတို့ရှိသမျှသည် သက်သေခံ
၃၃ ဖြစ်ကြ၏။ ထိုသို့ ဘုရား သခင် သည် လက်ျာ
လက်တော်နှင့် ချီးမြှင့်တော်မူသဖြင့်၊ ထိုသခင်
သည် ကတိတော်နှင့် ရှည်သော သန့်ရှင်းသော
ဝိညာဉ်တော်ကိုခမည်းတော်ထံ၌ခံပြီးဖြစ်၍ သင်
တို့ သိမြင်ကြားရသော အရာကို သွန်းလောင်း
၃၄ တော်မူ၏။ ဒါဝိဒ်သည် ကောင်းကင်သို့ မတက်
၃၅ သေး။ ထိုရာတွင်ထာဝရဘုရားက၊ သင်၏ရန်သူ
တို့ကို သင်၏ခြေတင်ရာ ငါမပြုမချင်း ငါ့
လက်ျာဘက်၌ထိုင်နေလော့ဟု ငါ့သခင်
၃၆ အားမိန့်တော်မူသည်ဟု ဒါဝိဒ်ဆို၏။ ထို
ကြောင့်၊ သင်တို့သည်လက်ဝါးကပ်တိုင်မှာကွပ်
မျက်သောယေရှုကိုဘုရားသခင်သည် ချစ်တော်
မူရာ၌ ရှင်၊ အမိုးရသော အရှင် အရာ၌ ခန့်
ထားတော်မူသည် အကြောင်းကို၊ ဣသရေလ
အမျိုးသား အပေါင်းတို့၊ အတပ်အမှန် သိမှတ်
ကြလော့ဟု ပေတရုဟောလေ၏။

၃၇ ထိုသူတို့သည် ကြားရလျှင် စိတ်နှလုံးထိုးဆွနှ
ခြင်းရှိ၍၊ ညီအစ်ကိုတို့၊ အဘယ်သို့ပြုရပါမည်
နည်းဟု၊ ပေတရုမှစ၍ အခြားသော တမန်တော်
၃၈ တို့အားမေးမြန်းကြ၏။ ပေတရုကလည်း၊ သင်
တို့၏အပြစ်ကို လွှတ်စေခြင်းငှါနောင်တရ၍၊ အ
ယောက်မျှမကြွင်း၊ ယေရှုခရစ်၏နာမ၌ နှစ်ခြင်း
ကို ခံကြလော့၊ ထိုသို့ပြုလျှင်၊ သန့်ရှင်းသောဝိညာဉ်
တော် တည်းဟူသော ဆုကျေးဇူးတော်ကို ခံရ
၃၉ ကြလိမ့်မည်။ အကြောင်းမူကား ကတိတော်
သည် သင်တို့နှင့်၎င်း၊ သင်တို့၏ သားမြေးတို့နှင့်
၎င်း၊ ဝေးသော သူတို့တွင် ငါတို့၏ ဘုရားသခင်

ထာဝရဘုရားခေါ်တော်မူသမျှသော သူတို့ နှင့်
၄၀ ၎င်ဆိုင်သည်ဟုဟောၥ၏။- ထိုမှတပါး၊ သဘော
မဖြောင့် သော ဤ အ မျိုး မှ ကယ် တင် ခြင်း သို့
ရောက် ကြလော့ ဟူ၍၊ အထူးထူး အပြားပြား
သောစကားနှင့် သက်သေခံ၍ တိုက်တွန်းသွေး
ဆောင်လေ၏။
၄၁ ထိုစကားကိုအသင့်နှစ်လိုးသွင်းမိသော သူတို့
သည် နှစ်ခြင်းကိုခံ၍၊ ထိုနေ့၌အရေအတွက်အား
ဖြင့် သုံးထောင်မျှလောက်သောသူတို့သည် ဝင်
၄၂ ကြ၏။-ထိုသူများသည်တမန်တော်တို့၏ဆုံးမဩ
ဝါဒကိုခံခြင်း၊ အပေါင်းအသင်းဖွဲ့ခြင်း၊ မုန့်ကို
ဖဲ့ခြင်း၊ ပဌနာ ပြုခြင်းတို့ကို အမြဲ ဆောင်နှက်၍
၄၃ နေကြ၏။- လူအပေါင်းတို့သည် ကြောက်လန့်
ခြင်းရှိသည်ဖြစ်၍တမန်တော်တို့သည် များစွာ
သောနိမိတ်လက္ခဏာ၊ အံ့ဩဘွယ်သောအမှုတို့ကို
၄၄ ပြုကြ၏။-ယုံကြည်သောသူအပေါင်းတို့သည်တ
စုတဝေးတည်းနေကြသဖြင့်၊ မိမိတို့၌ ရှိသမျှကို
၄၅ ဆက်ဆံ၍သုံးဆောင်ကြ၏။-မိမိတို့ဥစ္စာပစ္စည်း
များကိုရောင်းပြီးလျှင်၊ လူများဆင်းရဲသည် အ
တိုင်း၊ အသီးအသီးတို့အား ဝေငှခြင်းကို ပြုကြ
၄၆ ၏။-ထိုသူတို့သည်လည်းဗိတ်မှန်တော်၌နေ့တိုင်း
အစည် တညီတညွတ်တည်းနေ၍၊ ကိုယ်အိမ်၌
မုန့်ကိုဖဲ့လျက် ကြည်ဖြူ ရွှင်လန်း ဝမ်း မြောက်
သောစိတ်နှင့်အစာအာဟာရကိုသုံးဆောင်ကြ
၄၇ ၏။-ဘုရားသခင်ကိုလည်းချီးမွမ်း၍လူအပေါင်း
တို့ရှေ့မှာ မျက်နှာ ပွင့်လန်းခြင်းအခွင့်ကို ရကြ
၏။ကယ်တင်ခြင်းသို့ရောက်သောသူတို့ကိုလည်း
နေ့စဉ်မပြတ် သခင်ဘုရားသည် သင်းဝင်စေ
တော်မူ၏။

၃

၁ ထိုအခါ ပဌနာပြုရသောသုံးချက်တီးအချိန်၌
ပေတရုနှင့် ယောဟန်တို့သည်ဗိတ်မှန် တော်သို့
၂ တက်ကြသည်ရှိသော်၊- အမိ ဝမ်းတွင်း ကပင်
ခြေမစွမ်းသော သူတယောက်ကို သူတပါး တို့
သည်ထမ်းလျက်လာကြ၏။ဗိတ်မှန်တော်သို့ဝင်
သောသူတို့မှာ စွန့်ကြဲခြင်းကို ခံစေခြင်းငှါ၊တင့်
တယ်အမည်ရှိသောတံခါးနားမှာထိုသူကိုထား
၃ လေ့ရှိ၏။- ပေတရုနှင့် ယောဟန်တို့သည် ဗိတ်
မှန်တော်သို့ဝင်မည်လာကြသည်ကိုထိုသူသည်
၄ မြင်လျှင်၊စွန့်ကြဲပါဟုတောင်းလေ၏။- ထိုအခါ
ပေတရု နှင့် ယောဟန်တို့သည် ထိုသူကိုစေ့စေ့
ကြည့်ရှု၍၊ ငါတို့အား မျှော်ကြည့်လော့ဟု ဆို
၅ လျှင်၊-ထိုသူသည်တစုံတခုကိုရမည်ဟုစိတ်ထင်
နှင့်၊တမန်တော်တို့ကို မျှော်ကြည့်လျက် နေ၏။-
၆ ပေတရုကလည်း၊ ငါ၌ ရွှေငွေမရှိ။ ရှိသည်အရာ
ကိုသင့်အားငါပေးမည်။ နာဇရက်မြို့သားယေရှု
ခရစ်၏နာမတော်အားဖြင့်ထ၍လှမ်းသွားလော့
၇ ဟု ဆိုလျက်၊- သူ၏ လက်ျာလက်ကို ကိုင်ဆွဲချီ
ကြွလေသောခဏချင်းတွင်၊ ခြေနှစ်ဖက်ဖျက်မိ
၈ တို့သည်စွမ်းအားကိုရသဖြင့်၊ ခုပ်တရက်ထ၍
မတ်တတ်ရပ်ပြီးလျှင် လှမ်းသွားလေ၏။ သွား
လျက်၊ခုန်လျက်၊ဘုရားသခင်ကို ချီးမွမ်းလျက်၊
တမန်တော် တို့နှင့်အတူ ဗိတ်မှန် တော် သို့ ဝင်
၉ လေ၏။- ထိုသို့ လှမ်းသွား၍ ဘုရားသခင် အား
ချီးမွမ်းသည်ကို လူအပေါင်းတို့သည် မြင်သော
၁၀ အခါ၊- ထိုသူသည် ဗိတ်မှန်တော် ၏ တင့်တယ်
တံခါးနားမှာစွန့်ကြဲခြင်းကိုခံ၍ ထိုင်နေသောသူ
ဖြစ်သည်ကို သိကြသောကြောင့်၊သူ၌ဖြစ်သည်
၁၁ အမှုကိုအံ့ဩမိန်းမောတွေဝေခြင်းရှိ၍၊- ထို
သူသည်ပေတရုနှင့်ယောဟန်ကိုအမှီပြုလျက်ရှိ
ရာအရပ်၊ ရှောလမုန်ကနားပြင် အမည်ရှိသော
ကနားပြင်သို့ပြေးဝင်၍စုဝေးကြ၏။
၁၂ ပေတရုသည်မြင်လျှင်၊ဣသရေလလူတို့၊ အ
ဘယ်ကြောင့် ဤအမှုကို အံ့ဩ ကြ သနည်း။
ဤသူသည် လှမ်းသွားနိုင်သော အခွင့်ကို ငါတို့
သည်ကိုယ်တန်ခိုး၊ကိုယ်သီလအားဖြင့်ပေးအိ
သကဲ့သို့၊ အဘယ်ကြောင့်ငါတို့ကို စေ့စေ့ကြည့်
၁၃ ရှုကြသနည်း။- အာဗြဟံ၊ ဣဇာက်၊ ယာကုပ်
တို့၏ ဘုရားသခင်၊ ငါ တို့ဘိုးဘေး များ၏ဘုရား
သခင်သည်မိမိသားတော်၏ဘုန်းကိုထင်ရှားစေ
တော်မူပြီ။ ထိုသခင်ကိုသင်တို့သည်ပိလတ်မင်း
လက်သို့အပ်နှံ၍၊ထိုမင်းသည်လွှတ်မည်အကြံ
ရှိသော်လည်းသင်တို့သည်ထိုသခင်ကိုငြင်းပယ်
၁၄ ကြ၏။- သန့်ရှင်းဖြောင့်မတ်တော်မူသောသခင်
ကိုငြင်းပယ်၍၊လူအသက်ကိုသတ်ခြင်းအပြစ်ရှိ
သောသူတယောက်ကိုရမည်အကြောင်းတောင်း
၁၅ ပန်သဖြင့်၊-အသက်ရှင်ခြင်းသို့ပို့ဆောင်တော်မူ
သော အရှင်ကို ကွပ်မျက် ကြပြီတကား။ ထိုအ
ရှင်ကိုဘုရားသခင်သည် သေခြင်းမှထမြောက်စေ
တော်မူသည်ကို ငါတို့သည် သက်သေခံဖြစ်ကြ
၁၆ ၏။- ထိုသခင်ကိုယုံကြည်ခြင်းအားဖြင့်၊ထိုသခင်
၏နာမတော်သည်သင်တို့သိမြင်သောဤသူအား
အစွမ်း ကို ပေး တော် မူ ပြီ။ ထို သခင် ကြောင့်ရ
သော ယုံကြည်ခြင်းသည် သင်တို့ မျက် မှောက်

တွင် ဤသူ၌ ရှေ့စုံခြင်း၊ အစွမ်းကိုပေး၍ ရှိသတည်း။
၁၇ သို့ဖြစ်၍ ညီအစ်ကိုတို့၊ သင်တို့မှစ၍ အမှုး
ရသော လူတို့သည် မသိဘဲလျက်၊ ထို သို့ ပြု ကြ
၁၈ သည်ကို ငါသိ၏။- ခရစ်တော်သည် အသေခံရ
မည်ဟု၊ ပရောဖက်အပေါင်းတို့သည်ဟောပြော
၍၊ ဘုရားသခင် ဖော်ပြတော်မူနှင့်သော အမှုကို
၁၉ ထိုသို့ အားဖြင့် ပြီးစီး တော်မူပြီ။- ထိုကြောင့်၊
ထာဝရဘုရားထံတော်မှ ငြိမ်းသောအချိန်ကာ
၂၀ လသည် ရောက်လာ၍၊- သင်တို့ အဖို့ အလိုငှါ
ခန့်ထားတော်မူနှင့်သောယေရှုခရစ်ကိုစေလွှတ်
တော်မူမည် အကြောင်း၊ သင်တို့ အပြစ်များ ကို
ပြေစေခြင်းငှါ နောင်တရ၍ စိတ်ပြောင်းလဲခြင်း
၂၁ သို့ ရောက်ကြလော့။- ကမ္ဘာဦးမှစ၍ သန့်ရှင်း
သော ပရောဖက်ဆရာတော်ကို ဦးတတ်ဖြင့်၊ ဘုရား
သခင် ဗျာဒိတ်ထားတော်မူသော ထိုကပ်ကာလ၊
အလုံးစုံသော အရာတို့ကို အသစ်ပြုပြင်တော်မူ
သောကပ်ကာလမရောက်မှီတိုင်အောင်ကောင်း
ကင်ဘုံသည် ထိုခရစ်တော်ကို ခံယူ သိမ်းထားသည်
၂၂ ရမည်။- ငါတို့ဘိုးဘေးများတို့အားလည်းမောရှေ
က၊ သင်တို့၏ ဘုရားသခင် ထာဝရ ဘုရား
သည်၊ သင်တို့ အမျိုးသား ချင်းတို့ထဲ၌ ငါနှင့်
တူသော ပရောဖက် တပါးကို သင်တို့ အဖို့ ပေါ်
ထွန်းစေတော်မူမည်၊ ထိုပရောဖက်ဟောပြောသ
မျှသော အရာတို့ကို သင်တို့သည် နား ထောင်ရ
၂၃ ကြမည်၊- အကြင်သူသည်ထိုပရောဖက်၏စကား
ကိုနားမထောင်ဘဲနေ၏၊ ထိုသူသည်မိမိအမျိုးထဲ
၂၄ ကပယ်ရှင်းခြင်းကိုခံရမည် ဟုဟော၏။- ပရော
ဖက်ရှမွေလမှစ၍ နောက်ဟောသောပရောဖက်
ရှိသမျှတို့သည် ဤသည်နေ့ရက်ကာလကိုဟော
၂၅ ပြောပြည့်နှံကြပြီ။-သင်တို့သည်ပရောဖက်သမျိုး
အနွယ်ဖြစ်ကြ၏၊ ဘုရားသခင်သည် အာဗြဟံ
ကို၊သင်၏အမျိုးအနွယ်အားဖြင့်လူမျိုးအပေါင်း
တို့ သည် ကောင်းကြီး မင်္ဂလာ ကို ခံရကြ လိမ့်
မည်ဟု ဗျာဒိတ်ထားတော်မူ၍၊ ငါတို့ ဘိုးဘေး
များတို့အား ပေးတော်မူသော ပဋိညာဉ်တရား
၂၆ အာ်နှင့် သင်တို့သည်ဆိုင်ကြ၏။- သင်တို့တွင်
မိမိဒုစရိုက်တို့ကို ကြည်ရှောင်ပယ်ရှားသောသူ
ရှိသမျှ တို့အား ကောင်းကြီး မင်္ဂလာ ကို ပေးစေ
ခြင်းငှါ၊ ဘုရားသခင်သည်မိမိသားတော်ယေရှု
ကို ထမြောက်စေတော်မူပြီး လျှင်၊ သင်တို့ရှိရာ
သို့ ရှေဦးစွာ စေလွှတ်တော် မူသည်ဟု၊ လူများ
တို့အားပေတရုဟောပြော၏။

၄

၁ ထိုသို့ တမန်တော် တို့သည် လူများ တို့အား
ဟောပြောစဉ်တွင်၊ ဗိမာန်တော်မှူး မှစသော
ယဇ်ပုရောဟိတ်တို့နှင့် ဇဒ္ဒုကဲများတို့သည်ထ
၂ ကြသဖြင့်၊ တမန်တော်တို့သည်လူများတို့အား
ဆုံးမဩဝါဒပေး၍ယေရှုကိုအကြောင်းပြုလျက်၊
သေခြင်းမှထမြောက်ခြင်းတရားကို ဟောသော
ကြောင့်၊ ထိုမင်းများတို့သည် စိတ်ပူပန်ခြင်း ရှိ
၃ သည်နှင့်၊- တမန်တော်တို့ကိုဖမ်းဆီးပြီး၍၊ ည
အချိန်ဖြစ်သောကြောင့် နက်ဖန်နေ့ တိုင်အောင်
၄ နှောင်အိမ်၌ ချုပ်ထားကြ၏။- တရား နာသော
သူ အများတို့သည် ယုံကြည်ခြင်းသို့ ရောက်၍၊
အရေအတွက်အားဖြင့်လူငါးထောင်မျှလောက်
ရှိကြ၏။
၅ နက်ဖန်နေ့ ရောက် သော် မင်း အ ရာရှိ၊ လူ အ
၆ ကြီးအကဲ၊ ကျမ်းပြုဆရာ တို့ နှင့်၊- ယဇ်ပုရော
ဟိတ်မင်းအန္နတ်၊ကယာဖ၊ယောဟန်၊အာလေ
ဇန္ဒြုမှစ၍ ယဇ်ပုရောဟိတ် မင်းမျိုး ရှိသမျှ တို့
၇ သည်ယေရုရှလင်မြို့၌စုဝေးကြပြီးလျှင်၊-တမန်
တော်တို့ကို အလယ်၌ထား၍၊ အင်တို့သည်အ
ဘယ်သို့ သောတန်ခိုး၊ အဘယ်သူ၏ နာမအား
ဖြင့်ဤအမှုကိုပြုသနည်းဟုမေးမြန်းကြ၏။
၈ ထိုအခါ ပေတရုသည် သန့်ရှင်းသောဝိညာဉ်
တော်နှင့် ပြည့်လျက်၊ လူ များကို အုပ်စိုး ရသော
မင်းတို့နှင့် ဣသရေလအမျိုး အကြီး အကဲတို့၊-
၉ အနာ ရှိသောသူကို ကျေးဇူးပြု၍၊ သူသည်
အနာရောဂါနှင့် အဘယ်သို့ ကင်းလွတ် သနည်း
၁၀ ဟု၊ ငါတို့သည် ယနေ့ အစစ်ခံရလျှင်၊- သင်တို့
သည် လက်ဝါးကပ်တိုင်မှာ ကွပ်မျက်၍၊ ဘုရား
သခင် သည် သေ ခြင်း မှ ထ မြောက် စေ တော်မူ
သော၊ နာဇရက်မြို့သားယေရှုခရစ်၏နာမတော်
အားဖြင့်၊ဤသူသည်သင်တို့ရှေ့တော်၌ကျန်း
မာလျက်ရှိသည်ကို၊သင်တို့မှစ၍ဣသရေလလူ
၁၁ အပေါင်းတို့၊ သိမှတ်ကြလော့။- ထိုအစဉ်ကား၊
သင်တို့သည်တိုက်ကိုတည်လုပ်သောအခါပယ်
ထား၍၊ နောက်တဖန်တိုက်ထောင့်အထွဋ်မြတ်
သို့ ရောက်ပြန်သော ကျောက် ဖြစ်တော်မူ၏၊ ထို
သခင်မှတပါး အဘယ်သူမျှ ကယ်တင်ခြင်းအမှု
၁၂ ကို မတတ်နိုင်၊- ထိုသခင်၏နာမတော် မှတပါး
ငါ တို့ကို ကယ်တင် နိုင် သော နာမ တစုံ တခုမျှ
ကောင်းကင်အောက်၊ လူတို့တွင် မပေါ်မရှိဟု၊
ပေတရုသည်ထိုသူတို့အားမြွက်ဆို၏။

၁၃ ထိုသူတို့သည် ပေတရုနှင့် ယောဟန်တို့၏ ရဲ
ရင့်ခြင်းသတ္တိကိုမြင်၍၊ လူတတ်မဟုတ်၊ လူသာ
မည သာဖြစ်သည်ကို ထိမှတ်သဖြင့် အံ့ဩ၍
နေကြ၏။ ထိုသူနှစ်ယောက်တို့သည်အထက်က
၁၄ ယေရှုနှင့်အတူရှိသည်ကိုသတိရ၍ငင်၊- အနာ
ကင်းလွတ်သောသူသည်ထိုသူတို့နှင့်အတူရှိနေ
သည်ကို မြင်၍ငင်၊ ငြင်းခုံဆိုဖွယ်ရာ မရှိမတွေ့
၁၅ ကြ။- တမန်တော်တို့ကိုလွှတ်တော်မှထွက်သွား
စေပြီးလျှင်၊ ဤသူတို့ကို အဘယ်သို့ ပြုရမည်
၁၆ နည်း။-သူတို့သည်ထင်ရှားစွာသောနိမိတ်လက္ခ
ဏာကိုပြုပြီးသည်ကို၊ ယေရုရှလင်မြို့၌နေသော
သူ အပေါင်းတို့သည် သိမြင်ကြ၏။ ငါတို့သည်
၁၇ လည်း ငြင်းခုံခြင်းငှါ မတတ် နိုင်ပြီ။- သို့သော်
လည်း၊ လူများအထဲ၌သာ၍မနှံ့မပြားစေခြင်း
ငှါ၊နောက်တစန်ထိုနာမကိုအမှီပြုလျက်အဘယ်
သူကိုမျှ မဟောမပြောနှင့် ဟူ၍၊ သူတို့ကို ကြပ်
တဦးစွာခြိမ်းခြောက်ကြကုန်အံ့ဟု၊အချင်းချင်း
၁၈ တိုင်ပင်ပြီးမှ၊- တမန်တော်တို့ကိုခေါ်၍၊ယေရှု
၏နာမကို အမှီပြုလျက် ဟောပြောသွန်သင်ခြင်း
ကိုအလျှင်းမပြုနှင့်ဟုအမိန့်ရှိကြ၏။
၁၉ ပေတရုနှင့်ယောဟန်တို့ကလည်း၊ဘုရားသခင်
၏စကားတော်ကို နားထောင်သည်ထက် သင်တို့
၏စကားကိုသာ၍နားထောင်သော်၊ဘုရားသခင်
ရှေ့မှာ ကောင်းမည် မကောင်းမည်ကို ဆင်ခြင်
၂၀ ၍စီရင်ကြလော့။- ငါတို့သည်ကြားလျက်၊ မြင်
လျက်ရှိသော အရာတို့ကို မဟောမပြောဘဲမနေ
၂၁ နိုင်ဟု၊ ထိုသူတို့အား ဆိုကြ၏။- ထိုအခါတမန်
တော်တို့၌အပြစ်ဒဏ်ပေးသင့်သောအကြောင်း
ကိုမတွေ့သဖြင့်တဖန်ခြိမ်းခြောက်ပြီးလျှင်လွှတ်
၂၂ ကြ၏။-အကြောင်းမူကား၊အနာကင်းခြင်းနိမိတ်
လက္ခဏာကို ခံရသော သူသည် အ သက် လေး
ဆယ်ကျော်ရှိသည်ဖြစ်၍၊ လူအပေါင်းတို့သည်
ထိုအမှုကို ထောက် လျက်၊ ဘုရားသခင်၏ ဂုဏ်
တော်ကိုချီးမွမ်းကြ၏။
၂၃ တမန်တော်တို့သည်လွှတ်သောအခါ၊ မိမိတို့
အပေါင်းအသင်း ရှိရာသို့ သွား ၍၊ မိမိ တို့ အား
ယဇ်ပုရောဟိတ် အကြီးတို့နှင့် လူအကြီးအကဲ
၂၄ တို့ပြောဆိုသမျှကို ပြန်ကြားကြ၏။- ထိုသူများ
တို့သည်ကြားရလျှင်၊တညီတညွတ်တည်းဘုရား
သခင်ထံသို့ အသံကို လွှင့်လျက်၊ အရှင်ဘုရား
သခင်၊ကိုယ်တော်သည်ကောင်းကင်၊ မြေ
ကြီး၊ သမုဒ္ဒရာမှစ၍ထိုအရပ်တို့၌ ရှိသမျှတို့ကို
ဖန်ဆင်းတော်မူသော ဘုရားသခင် ဖြစ်တော်မူ
၂၅ ၏။- ကိုယ်တော်ကလည်း၊ လူမျိုးတို့သည် အ
ဘယ်ကြောင့် ရုန်းရင်းခတ်ပြုကြသနည်း။ လူ
တို့သည် အဘယ်ကြောင့် အချည်းနှီးကြံစည်ကြ
၂၆ သနည်း။- လောကီရှင်ဘုရင်တို့သည် ထကြ၍၊
မှူးမတ်အရာရှိတို့လည်း ထာဝရဘုရားနှင့် ခရစ်
တော်ကို ရန်ဘက်ပြုလျက် စည်းဝေးကြ၏ဟု၊
ကိုယ်တော် ကျွန်ဒါဝိဒ်၏ နှုတ်ဖြင့် ဗျာဒိတ် ထား
၂၇ တော်မူသည်နှင့်အညီ၊-ယေရှုဒ်မင်း၊ပုန္တိပိလတ်
မင်းမှစ၍ ဣသရေလအမျိုးသား၊ တပါးအမျိုး
၂၈ သားတို့သည်၊- ကိုယ်တော်၏ အလိုရှိသည် အ
တိုင်း၊ ရှေးမဆွကလက်တော်ဖြင့် ခွဲခန့်မှတ်သား
တော်မူနှင့်သမျှတို့ကို ပြုခြင်းငှါ၊ ဘိသိက်ပေး
တော်မူသော သားတော် မြတ်ယေရှုကို၊ ဤမြို့၌
ရန်ဘက်ပြု၍စည်းဝေးကြပြီ၊ အမှန်ဖြစ်ပါ၏။-
၂၉ ထို ထာဝရဘုရား၊ ယခု အခါ ထို သူတို့၏ ခြိမ်း
၃၀ ခြောက်ခြင်းကို မှတ် တော် မူပါ။- အနာရောဂါ
ငြိမ်း စေ ခြင်းငှါ လက် တော်ကို ဆန့်တော်မူ၍၊
သန့်ရှင်း သော သား တော် ယေရှု၏ နာမ တော်
အားဖြင့်နိမိတ်လက္ခဏာ၊ အံ့ဖွယ်သောအမှုတို့
ကို ဖြစ်စေတော်မူစဉ်တွင်၊ ကိုယ်တော်၏ကျွန်
တို့သည် နှုတ်ကပတ် တရားတော်ကို ရဲရင့်စွာ
ဟော ပြော ပါ မည် အကြောင်း ကယ် မ သနား
၃၁ တော်မူပါဟုဆုတောင်းကြ၏။-ထိုသို့ဆုတောင်း
ပဌနာ ပြု ပြီးမှ၊ စုဝေး သော အရပ် သည် တုန်
လှုပ်၍၊ ထိုသူအပေါင်းတို့သည် သန့်ရှင်းသော
ဝိညာဉ်တော်နှင့်ပြည့်သဖြင့်၊ ဘုရားသခင်၏နှုတ်
ကပတ်တရားတော်ကိုရဲရင့်စွာဟောပြောကြ၏။
၃၂ ယုံကြည်သော သူအပေါင်း တို့သည် စိတ်နှလုံး
တညီတညွတ်တည်းရှိကြ၍၊ အဘယ်သူမျှ
မိမိဥစ္စာတစုံတခုကို၊ ငါ့ဥစ္စာဟူ၍ မဆိုဘဲလျက်၊
ရှိသမျှသော ဥစ္စာ တို့ကို ဆက် ဆံ သ ဖြင့် သုံး
၃၃ ဆောင်ကြ၏။- သခင် ယေရှု ထမြောက် တော်မူ
ခြင်းအကြောင်းကို၊ တမန် တော် တို့သည် ကြီး
သောတန်ခိုးနှင့်သက်သေခံ၍၊ထိုသူအပေါင်းတို့
သည်ကြီးသောကျေးဇူးတော်နှင့်ပြည့်စုံကြ၏။-
၃၄ ထိုသူတို့တွင် ဆင်းရဲသောသူတယောက်မျှ မရှိ။
အကြောင်းမူကား၊ အိမ်မြေကွက်ကို ပိုင်သော
သူရှိသမျှတို့သည်ရောင်းပြီးလျှင်၊ရသောအဘိုး
၃၅ ကို ယူဆောင်ခဲ့၍၊- တမန်တော်တို့၏ ခြေရင်း၌
ထားကြသဖြင့်၊ လူများဆင်းရဲသည်အတိုင်း၊အ
သီးအသီးတို့အားဝေငှပေးကမ်းကြ၏။

၃၆ ယောသေ အမည်ရှိ၍၊ သက်သာ ခြင်း၏
သား၊ ဟုဆိုထိုသော ဗာနဗအမည်ထစ်ကို တမန်
တော်တို့သမုတ်ခြင်းအသား၊ ကုပရုပြည်
၃၇ သား၊ လေဝိလူ တယောက်သည်၊- မိမိပိုင်သော
မြေကိုရောင်းပြီးလျှင်၊ ရသောငွေကိုယူဆောင်ခဲ့
၍တမန်တော်တို့၏ခြေရင်း၌ထားလေ၏။

## ၅

၁ ထိုရာတွင်၊ အာနနိနှင့် ရှမိရေအမည်ရှိသော
ထင်မယား နှစ်ယောက်တို့မှကား၊ ဥစ္စာတနုံတ
၂ စုကိုရောင်းပြီးလျှင်၊-ထိုသူသည်မိမိခင်ပွန်းနှင့်
သဘောတူလျက်၊ အထိုး၏တဖို့ကို ထိမ်ဝှက်သ
ခြင့်၊တဖို့ကိုသာ ယူဆောင်နှဲ၍ တမန်တော်တို့၏
၃ ခြေရင်း၌ထားလေ၏။- ပေတရုကလည်း၊ အာန
နိ၊သင်သည်သန့်ရှင်းသောဝိညာဉ်တော်ကိုဗှည့်
စား၍၊မြေကိုရောင်းသောအ ထိုး၏ တဖို့ကိုထိမ်
ဝှက်မည်အကြောင်း၊ စာတန်သည် သင်၏ စိတ်
နှစ်လုံးကို အဘယ်ကြောင့် ပြည့်စေရသနည်း။-
၄ ထိုမြေရှိစဉ်တွင် ကိုယ်ပိုင်သည် မဟုတ်လော၊
ရောင်း၍ ရသော အထိုးသည် ကိုယ် ဥစ္စာ ဖြစ်
သည် မဟုတ် လော၊ အဘယ်ကြောင့် ဤသို့ကြံ
စည်သနည်း၊ လူကိုသာ စုသာ ပြောပြီမဟုတ်၊
ဘုရား သခင်ကိုလည်း စုသာပြောပြီဟု ပေတရု
၅ ဆို၏၊-ထိုစကားကိုကြားလျှင်၊အာနနိသည်လဲ
၍သေ၏၊ ထိုအကြောင်းအရာကို ကြားသောသူ
အပေါင်းတို့သည် အလွန် ကြောက်လန့်ခြင်းသို့
၆ ရောက်ကြ၏။- လုလင်တို့သည်လည်းထ၍၊ အ
လောင်းကောင်ကို အဝတ်နှင့် ပတ်ရစ်ပြီးလျှင်
ဆောင်သွား၍သင်းဂြိုဟ်ကြ၏။
၇ ထိုနောက် သုံးနာရီခန့်လောက်ကြာလျှင်၊ သူ
၏ခင်ပွန်းသည်ဖြစ်ခဲ့ပြီးသောအမှုအရာကိုမသိ
၈ ဘဲလျှက် ဝင် လာ၏၊- ပေတရု က လည်း၊ ဤမျှ
လောက် နှင့်မြေကို ရောင်းသလော၊ ငါအားပြော
လော့ဟု မေးလျှင်၊ ထိုမိန္မက၊ ဟုတ်ပါ၏၊ ဤမျှ
၉ လောက် နှင့်ပင်ရောင်းပါသည်ဟုဆို၏၊-ပေတရု
ကလည်း၊ ထာဝရ ဘုရား၏ ဝိညာဉ်တော်ကို စုံ
စမ်းမည်ဟု၊ သဘောတူနှင့်အဘယ်ကြောင့်ကြံ
စည်ကြသနည်း၊ ကြည့်ရှုလော့၊ သင်၏ခင်ပွန်း
ကို သင်းဂြိုဟ်သောသူတို့၏ ခြေသည်တံခါးနား
မှာ ရှိသည်ဖြစ်၍၊ သင့် ကို လည်း ဆောင် သွား
၁၀ လေဦးမည်ဟု ဆိုသောခဏ ချင်းတွင်၊- ထိုမိန္မ
သည်ပေတရု၏ခြေရင်း၌လဲ၍ သေလေ၏၊လုလင်
တို့သည်လည်း ဝင်၍ ထိုမိန္မ သေသည်ကို တွေ့

လျှင်၊ဆောင်သွား၍သူ၏ခင်ပွန်းအနားမှာသင်း
၁၁ ဂြိုဟ်ကြ၏၊- သင်းဝင်သူ အပေါင်းမှစ၍ ထိုအ
ကြောင်းအရာကို ကြားရသော သူအပေါင်းတို့
သည်အလွန်ကြောက်လန့်ခြင်းသို့ရောက်ကြ၏။
၁၂ တမန်တော်တို့သည် လည်း၊ လူများရှေ့မှာ
နိမိတ်လက္ခဏာ၊ အံ့ဩဘွယ်သော အမှုအရာ များ
ကိုပြုကြ၏၊ ထိုသူအပေါင်းတို့သည် ရှောလမုန်
ကနားဖြင်၌တညီတညွတ်တည်းနေကြသဖြင့်၊-
၁၃ ကြွင်းသောသူတနုံတယောက်မျှ မပေါင်းဖော်ဝံ့
သော်လည်း၊ လူများတို့သည် ကောင်းကြီးပေး
၁၄ ကြ၏၊-သခင်ဘုရား၌ယုံကြည်သောယောက်ျား
၁၅ မိန္မအပေါင်းတို့သည် သင်းဝင်ကြ၏၊- ပေတရု
သည်ထမ်းချီ ရှောက်သွားစဉ်၊ အနာစွဲသောသူ
တို့တွင်တယောက်ယောက်ကို လွှမ်းအရိပ်ထွမ်း
မိုးစေခြင်းငှါ၊ လူနာတို့ကိုလမ်းနားသို့ ထုတ်၍
၁၆ စုတင်မွေ့ရာပေါ်မှာထားကြ၏၊- ပတ်ထည်ဝန်း
ကျင်၌ရှိသော မြို့သူ ရွာသား အပေါင်းတို့သည်
အနာစွဲသောသူ၊ နတ်ဆိုးညှဉ်းဆဲသောသူတို့ကို
ဆောင်ခဲ့လျက်၊ ယေရုရှလင်မြို့သို့စုဝေးလာကြ
၍၊ထိုလူနာ အပေါင်း တို့သည် အနာကင်းလွတ်
ခြင်းသို့ရောက်ကြ၏။
၁၇ ထိုအခါယဇ်ပုရောဟိတ်မင်းနှင့်ဇဒ္ဒုကဲဂိုဏ်း
ဖြစ်သောထိုမင်း၏အပေါင်း၊ အဖော်ရှိသမျှတို့သည်
၁၈ ထ၍ဒေါသအမျက်နှင့်ပြည့်ကြသဖြင့်၊- တမန်
တော်တို့ကိုဖမ်းဆီး၍ ထောင်ထဲ၌ချောင်ထား
၁၉ ကြ၏၊-ညဉ့်အခါထာဝရဘုရား၏ကောင်းကင်
တမန်သည်ထောင်တံခါးကိုဖွင့်ပြီးလျှင်၊ ထိုသူ
၂၀ တို့ကိုနုတ်၍၊ သင်တို့သွားကြလော့၊- ဗိမာန်
တော်၌ရပ်၍ အသက်ရှင်ခြင်း တရား စကားအ
လုံးစုံကိုလူများတို့အား ဟောပြောကြလော့ဟု
မှာထား၏၊ ထိုစကားကိုကြားလျှင်၊ နံနက်စော
စောဗိမာန် တော်သို့ဝင်၍ ဆုံးမ ပြောဆိုလေ
ကြ၏။
၂၁ ယဇ်ပုရောဟိတ်မင်းနှင့်သူ၏အပေါင်းအဖော်
တို့သည်လာကြသဖြင့်၊ လွှတ်တော်ရှိမှစ၍ဣသ
ရေလလူတို့တွင် အသက်ကြီးသောသူ အပေါင်း
တို့ကိုစုဝေးစေပြီးမှ၊ တမန်တော် တို့ကို ခေါ်စေ
ခြင်းငှါ လုလင်တို့ကို ထောင်သို့စေလွှတ်ကြ၏၊-
၂၂ မင်းလုလင် တို့သည် ထောင်သို့ရောက်လျှင်၊ တ
မန်တော်တို့ကိုထောင်ထဲမှာမတွေ့သည်ရှိသော်
၂၃ ပြန်ကြ၍၊- ထောင်တံခါးလည်း၊ အထူးသဖြင့်
လုံခြုံစွာ ပိတ်လျက်၊ ထောင်ကို စောင့်သောသူ

ထို့ထည်း၊ တံခါး၊ပြင်မှာ ရပ်လျက် ရှိကြသည်ကို
အကျွန်ုပ်တို့သည်တွေ့ပါ၏။ ဖွင့်ပြီးမှအထဲ၌ အ
ဘယ်သူကိုမျှ မတွေ့ပါဟုကြား၊လျှောက်ကြ၏။-
၂၄ ယဇ်ပုရောဟိတ်မင်းနှင့်ဗိမာန်တော်မှူး၊အစရှိ
သောယဇ်ပုရောဟိတ်အကြီးတို့သည် ထိုစကား
ကိုကြား၊လျှင်၊ ထိုအမှုသည်အဘယ်သို့သောအ
မှုဖြစ်လိမ့်မည်နည်း၊ဟူ၍ တွေး၊တောခြင်း၊ ရှိကြ
၂၅ ၏။- ထိုအခါလူတယောက်သည်လာ၍၊ထောင်
ထဲမှာ လှောင်ထား၊သော လူတို့ သည် ဗိမာန်
တော်၌ ရပ်လျက်၊ လူများ၊တို့အား၊ ဆုံးမ ဩဝါဒ
ပေး၊ကြပါသည်ဟုလျှောက်လေ၏။
၂၆ ထိုအခါ ဗိမာန် တော်မှူးသည် မင်း၊ လုလင်
တို့နှင့်အတူသွား၊ပြန် လျှင်၊ မိမိတို့ကို လူများ၊တို့
သည် ကျောက်ခဲနှင့် ပြစ်မည်ကို မှုး၊ ရိမ်သော
ကြောင့်၊တမန်တော်တို့ကိုအနိုင်အထက်မပြုဘဲ
၂၇ ခေါ်ဆောင်လေ၏။- ထိုသို့ ခေါ်ဆောင်ပြီး၊လျှင်၊
လွှတ်အရာရှိတို့ရှေ့မှာ ထား၍ယဇ်ပုရောဟိတ်
မင်း၊က၊-ထိုနာမကိုအမှီပြု၍မဆုံးမသွန်သင်မဦ
၂၈ အကြောင်း၊၊ငါတို့သည်သင်တို့အား၊ကြပ်တည်း
စွာစီရင်မှာထား၊သည်မဟုတ်လော၊ယခုကြည့်
ကြ၊ ယေရုရှလင်မြို့ကိုသင်တို့အယူဝါဒနှင့်ပြည့်
စေသည်ဖြစ်၍၊ ငါတို့အပေါ်သို့ထိုသူ၏ အသွေး
ကိုရောက်စေခြင်း၄ါ သင်တို့ကြံစည်ပါသည်တ
၂၉ ကား၊ဟု မေးမြန်း၊ပြောဆိုကြ၏။- ပေတရုနှင့်အ
ခြား၊သောတမန်တော်တို့ကလည်း၊ လူ၏စကား၊
ထက် ဘုရား၊သခင်၏စကား၊တော်ကိုနား၊ထောင်
၃၀ ထိုက်ပါ၏။- သင်တို့သည် သစ်တိုင်၌ ဆွဲ၍ ကွပ်
မျက်သောယေရှုကို ငါတို့ဘိုး၊ဘေး၊များ၊၏ဘုရား၊
၃၁ သခင်သည်ထမြောက်စေတော်မူပြီ၊-ဣသရေလ
လူတို့အား၊ နောင်တတရား၊နှင့် အပြစ်လွှတ်ခြင်း၊
အခွင့်ကို ပေး၊စေခြင်း၄ါ၊ ထိုသူကို အမိုး၊ရသော
အရှင်အရာ၌၎င်း၊ ကယ်တင်သော သခင်အရာ၌
၎င်း၊ ဘုရား၊သခင် ခန့်ထား၊၍ မိမိလက်ျာ ထက်
၃၂ တော်နှင့်ချီး၊မြှင့်တော်မူပြီ။-ထိုအကြောင်း၊အရာ
တို့သည်အမှန်ဖြစ်ကြောင်း၊ကိုငါတို့သည် သက်
သေခံဖြစ်ကြ၏၊ ဘုရား၊သခင်၏ စကား၊ တော်ကို
နား၊ထောင်သော သူတို့အား၊ ပေး၊ သနား၊ တော်မူ
သော၊ သန့်ရှင်း၊သော ဝိညာဉ်တော်သည်လည်း၊
သက်သေခံဖြစ်တော်မူသည်ဟုပြောဆိုကြ၏။
၃၃ ထိုစကား၊ကိုကြား၊လျှင်၊ ထိုသူတို့နှစ်လုံး၊သဉ်
ကွဲပြတ် မတတ် ဖြစ်၍၊ တမန် တော် တို့ကို ကွပ်
မျက်ခြင်း၄ါအချင်း၊ချင်း၊ တိုင်ပင်ပြောဆိုကြ၏။-
၃၄ ထိုအခါလူအပေါင်း၊တို့ရိုသေသောသူ၊ ဂါမလျေ
လအမည် ရှိသောနိယာရည်၊ ဆရာ၊ ဖာရိရှဲတ
ယောက် သည် လွှတ် တော်ပေါ်၌ ထ၍၊ တမန်
၃၅ တော်တို့ကို ပြင်သို့ခဏ ထွက် စေပြီး၊ လျှင်၊- ဣ
သရေလ လူ တို့၊ ဤသူတို့အား၊အဘယ်သို့ပြုမည်
၃၆ အရာကိုသတိနှင့်ဆင်ခြင်ကြလော့။-အကြောင်း၊
မူကား၊၊ အထက်က သုဒ အ မည် ရှိ သော သူတ
ယောက် သည် ထ ထ မြောင့်၊ ငါသည် လူ ထာ မည ဖ
ဖြစ်သည် ဟု ဆို သည် ဖြစ် ၍၊ သူ၌ လူ လေး ရာ မျှ
လောက် ဆည်း၊ကပ်ကြ၏၊ ထို သူသည် ပျက်စီး
ခြင်း၊သို့ ရောက်၍ သူကို ယုံကြည်သမျှသော သူ
၃၇ တို့သည်ကွဲပြား၊ပျောက်ပျက်ကြ၏၊-ထိုသူနောက်
ငွေတော်ခွဲစည်းကာလ ယုဒအမည်ရှိသော ဂါလိ
လဲ လူတယောက်သည်ထည်း၊ထ၍၊ မိမိ နောက်
သို့ လူများ၊ကို သွေး၊ဆောင် လေ၏၊ ထို သူသည်
လည်း၊ပျက်စီး၊ခြင်း၊သို့ ရောက်၍၊သူကို ယုံကြည်
၃၈ သမျှသောသူတို့သည် ပျောက်လွင့်ကြ၏။- ထို့
ထည်း၊ဤသူတို့ကိုရှောင်ရှား၊၍ အလိုအလျောက်
ရှိကြပါစေဟု ငါဆို၏၊ ဤ အကြံ၊ ဤ အမှု သည်
လူ၏အကြံ၊ လူ၏အ မှုဖြစ်လျှင် ပျက် စီး၊ ခြင်း၊သို့
၃၉ ရောက်လိမ့်မည်။-ဘုရား၊သခင်၏အကြံ အမှုဖြစ်
လျှင်၊ သင်တို့သည် မဖျက်ဆီး၊ နိုင်ကြ၊ သင်တို့
သည်ဘုရား၊သခင်၏အာဏာတော်ကို ဆန့်သော
သူ မဖြစ်မည်အကြောင်း၊ သတိ ပြုကြလော့ဟု
၄၀ ပြောဆို၏။- ထိုစကား၊ကို နား၊ထောင်ကြသဖြင့်၊
တမန်တော်တို့ကို ခေါ်၍ရိုက်နှက်ပြီး၊မှ၊ ယေရှု
၏နာမကို အမှီ ပြုလျက် မဟော မပြော မည် အ
၄၁ ကြောင်း၊မြစ်တား၊၍လွှတ်ကြ၏။-တမန်တော်တို့
သည်မူကား၊၊ သခင်ယေရှု၏နာမတော် ကြောင့်
မိမိတို့သည် အရှက်ကွဲခြင်း၊ကို ခံထိုက်ကြသည်
ဟုမှတ်တော်မူသောကြောင့် ဝမ်း၊မြောက် လော
၄၂ မိတ်ရှိ၍လွှတ်တော်မှထွက်သွား၊ကြ၏။-ဗိမာန်
တော်၌၎င်း၊အိမ်၌၎င်း၊ နေ့ တိုင်း၊အစဉ်ဆုံးမသွန်
သင်လျက်၊ ယေရှုသည် ခရစ် တော်ဖြစ်၏ ဟူ၍
ဧဝံဂေလိ တရား၊ကို မပြတ် ဟော ပြောလျက် နေ
ကြ၏။

၆

၁ ထိုကာလ၌ တပည့် တော်တို့သည် များ၊ပြား၊
သည်ရှိသော်၊နေ့ရက် အစဉ်အတိုင်း၊လုပ်ကျွေး၊
သော အခါ ဟေလသနစ် အမျိုး၊ မုဆိုး၊မ တို့ကို မ
ထုပ်မကျွေး၊ဟု၊ ထိုအမျိုး၊သား၊တို့သည်မြည်တမ်း၊
၂ ၍ ဟေဗြဲလူတို့ကိုအပြစ်တင်ကြ၏။- ထိုအခါတ

ကျိပ်နှစ်ပါး၊ သော တမန်တော်တို့သည် တပည့်
တော် အပေါင်းတို့ကို ခေါ်ပြီးလျှင်၊ ငါတို့သည်
ဘုရားသခင်၏ နှုတ်ကပတ် တရားတော်ကို ထား
၃ ၍ စားပွဲ၌ လုပ်ကျွေးမှုကို မဆောင် သင့်။- ထို
ကြောင့်ညီအစ်ကိုတို့၊ ဝိညာဉ်တော်နှင့်၎င်း၊ ပညာ
နှင့်၎င်း ပြည့်စုံလျက်၊ အသရေ ရှိသော လူ ခုနစ်
ယောက်တို့ကို သင်တို့တွင်ရှာကြလော့။ ဤအမှု
ကိုဆောင်ရွက်စေခြင်းငှါ ထိုသူတို့ကို ငါတို့သည်
၄ ခန့်ထားကြမည်။- ငါတို့မူကား၊ ဆုတောင်း ပဌ
နာပြုခြင်း၊ နှုတ်ကပတ် တရားတော်ကို ဟော
ပြောခြင်း၊ အမှုတို့ကို အမြဲပြု၍နေမည်ဟု ဆိုကြ
၅ ၏။-ထိုစကားကို လူအစုအဝေးအပေါင်းတို့သည်
နှစ်သက်ကြသဖြင့်၊ ယုံကြည်ခြင်းနှင့်၎င်း၊ သန့်
ရှင်းသော ဝိညာဉ်တော်နှင့်၎င်း ပြည့်စုံသော သ
တေဖန်မှစ၍ ဖိလိပ္ပု၊ ပြောခေါရု၊ နိကနော်၊ တိမုန်၊
ပါမေနာ၊ ယုဒ ဘာ သာ ဝင် သော အန္တိ အုတ် မြို့
၆ သား နိကောလတို့ကို ရွေးကောက်၍၊- တမန်
တော်တို့ရှေ့၌ ထားကြ၏။ တမန် တော်တို့သည်
ထည်း၊ ဆု တောင်း ပြီးလျှင် ထိုသူတို့၏ ခေါင်း
ပေါ်၌ လက်ကိုတင်ကြ၏။

၇ ဘုရားသခင်၏ သာသနာတော်သည်တိုးပွား
သဖြင့်ယေရုရှလင်မြို့၌တပည့်တော်တို့သည်အ
လွန်ပွားများ၍၊ ယဇ်ပုရောဟိတ် အပေါင်း တို့
သည်ယုံကြည်ခြင်းတရားကိုနားထောင်ကြ၏။-
၈ သတေဖန်သည် ကျေးဇူး တော်နှင့် ၎င်း၊ တန်ခိုး
တော်နှင့်၎င်း ပြည့်စုံသဖြင့်၊ ကြီးစွာသော နိမိတ်
လက္ခဏာ၊ အံ့ဩဖွယ်သော အမှုတို့ကို လူများ ရှေ့
၉ မှာပြုလေ၏။- ထိုအခါ လိဗေရတိန် အပေါင်းအ
သင်းဝင်သောသူမှစ၍၊ ကုရေနေပြည်သား၊ အာ
လေဇန္ဒြိပြည်သား၊ ကိလိကိ ပြည်သား၊ အာရှ
ပြည်သား၊ အချို့တို့သည်ထ၍ သတေဖန်နှင့်ငြင်းခုံ
၁၀ ခြင်းကိုပြုစဉ်တွင်၊-သူဟောပြော၍သုံးစွဲသော
၁၁ ပညာနှင့်ဝိညာဉ်တော်ကိုပယ်မဆီးနိုင်ကြ။- ထို
အခါ ဤသူသည်မောရှေကို၎င်း၊ ဘုရားသခင်ကို
၎င်း လွန်ကျူး၍ပြောသည်ကို ငါတို့ကြားရပါပြီ
ဟုထွက်သေခံမည့်သူတို့ကိုတိတ်ဆိတ်စွာခေါ်၍
၁၂ ထားကြပြီးလျှင်၊- လူများကို၎င်း၊ အကြီးအကဲ၊
ကျမ်းပြုဆရာတို့ကို၎င်း နှိုးဆော်၍၊ သတေဖန်ထံ
သို့လာသဖြင့်ဖမ်းဆီး၍လွှတ်တော်သို့ပို့ကြ၏။-
၁၃ မမှန်သော သက်သေခံတို့ကိုခေါ်၍၊ ဤသူသည်
သန့်ရှင်း သော အရပ် ဌာ န တော် နှင့် ပညတ်
တရားတော်ကိုလွန်ကျူး၍ အစဉ်မပြတ်ပြော
၁၄ ဆိုလျက် နေပါ၏၊ -ထိုနာဇရက်မြို့ သား ယေရှု
သည် ဤအရပ် ဌာန တော်ကို ဖျက်ဆီး၍၊ ငါတို့
အားမောရှေအပ်ပေးသောထုံးနည်းဥပဒေသကို
ပြောင်းလဲစေမည်ဟု၊ ဤသူဆိုသည်ကိုအကျွန်ုပ်
၁၅ တို့သည်ကြားရပါပြီဟုသက်သေခံကြ၏။-လွှတ်
တော်၌ ထိုင်လျက်ရှိသော သူအပေါင်းတို့သည်
သတေဖန်ကို စေ့စေ့ကြည့်ရှုလျှင်၊ သူ၏မျက်နှာ
သည် ကောင်းကင်တမန်၏ မျက် နှာ ကဲ့ သို့ ဖြစ်
သည်ဟုထင်မှတ်ကြ၏။

၇

၁ ထိုအခါ ယဇ်ပုရောဟိတ် မင်းက၊ ဤစကား
၂ မှန်သလောဟုမေးသည်ရှိသော်၊-သတေဖန်က၊
ညီအစ်ကိုအဘတို့၊ နားထောင်ကြပါလော့။ ငါတို့
အဘ အာဗြဟံသည် ခါရန်မြို့၌ မနေမှီ၊ မေသော
ပေါတာမိတိုင်း၌ ရှိစဉ်အခါ၊ ဘုန်းကြီးတော်မူ
၃ သောဘုရားသခင်သည်ထင်ရှားတော်မူ၍၊-သင်
နေသော ပြည်နှင့် တကွ အမျိုး သားချင်းများထဲ
မှထွက်ပြီးလျှင်၊ ငါပြမည့်သောပြည်သို့ သွား
၄ လော့ဟု၊ အာဗြဟံအားမိန့်တော်မူ၏။- ထိုအခါ
အာဗြဟံသည် ခါလဒဲပြည်မှထွက်၍ ခါရန်မြို့၌
နေ၏။ သူ၏အဘသေလွန်သည်ရှိသော်၊ သင်တို့ယခု
ထိုနေသောဤပြည်သို့ ထိုမြို့မှ ပြောင်းစေတော်မူ
၅ ၏။- ဤပြည်၌မြေနင်းရာကိုမျှ အမွေပေးတော်မ
မူသော်လည်း၊ သူမှစ၍ သူ၏ သားမြေး တို့အား
ဤပြည်ကို အပိုင် ပေး တော် မူ မည် ဟု၊ သား တ
၆ ယောက်မျှမရှိမှီ ဂတိထားတော်မူ၏။- သင်၏အ
မျိုးအနွယ်သည်သူတပါးပိုင်သောပြည်၌ဧည့်
သည်ဖြစ်ကြသဖြင့်၊ သူတပါးတို့၌ ကျွန်ခံခြင်း၊
နှိပ်စက်ညှဉ်းဆဲခြင်းကိုအနှစ်လေးရာပတ်လုံး
၇ ခံရကြလိမ့်မည်။- သူတို့ကို စေခိုင်းသော လူမျိုး
ကိုလည်း ငါစီရင်မည်။ ထိုနောက်မှ သူတို့သည်
ထွက်၍၊ ဤအရပ်၌ ငါ့အားဝတ်ပြုကြလိမ့်မည်
၈ ဟု မိန့်တော်မူ၏။- ဘုရားသခင် သည်
ထည်း၊ အရေဖျားလှီးခြင်းနှင့်ဆိုင်သောပဋိညာဉ်
တရားကို အာဗြဟံအား ပေး တော်မူ၏။ ထိုသို့
ဣဇာက်ကိုဖွားမြင်၍ ရှစ်ရက်မြောက်သောနေ့
၌ အရေ ဖျား လှီးခြင်းကို ပေး လေ၏။ ဣဇာက်
သားယာကုပ်၊ ယာကုပ်သားများကား၊ အမျိုး၏
၉ အစ တကျိပ် နှစ်ပါး တည်း။- အမျိုး၏ အစ တို့
သည်လည်း၊ ငြူစူသော စိတ်ရှိ၍၊ ယောသပ်ကို
အဲဂုတ္တုပြည်သို့ရောင်း၍လိုက်ကြ၏။ဘုရားသခင်
၁၀ သည်သူ့ကိုစောင့်မတော်မူလျက်၊- အထွေထွေသော

ဗုက္ခဆင်းရဲထဲမှ ကယ်နှုတ်၍၊ အဲဂုတ္တုပြည်ကို
အစိုးရသောဖာရောဘုရင်ထံ၌မျက်နှာပွင့်လန်း
ခြင်းနှင့် ပညာအတတ်ကိုပေးတော်မူသဖြင့်၊ ထို
မင်းကြီးသည် အဲဂုတ္တုနိုင်ငံအုပ်အရာ၊ နန်းတော်
အုပ်အရာ၌ယောသပ်ကိုခန့်ထားလေ၏။
၁၁ ခါနာန်ပြည်နှင့် အဲဂုတ္တုပြည်တရှောက်လုံး၌
အစာခေါင်းပါးခြင်း၊ ကြီးစွာသော ဆင်းရဲခြင်း
ရှိ၍ ငါတို့အဘများ၌ စားစရာကုန်သောအခါ၊ အဲ
ဂုတ္တုပြည်မှာ ဆန်စပါးရှိသည်ဟု၊ ယာကုပ်
၁၂ သည် ကြားလျှင်၊- ငါတို့အဘများကို ပဌမအ
၁၃ ကြိမ်တွင်စေလွှတ်လေ၏။- ဒုတိယအကြိမ်တွင်
ယောသပ်သည် မိမိညီအစ်ကိုတို့အား မိမိအ
ကြောင်းကိုဖော်ပြ၍၊ ဖာရောဘုရင်သည် ယော
၁၄ သပ်၏အမျိုးကိုသိတော်မူ၏။-ထိုအခါယောသပ်
သည် စေလွှတ်၍ မိမိအဘ ယာကုပ်နှင့်တကွ အ
ရေ အတွက် အားဖြင့် ခုနစ်ဆယ့်ငါးယောက်
သော မိမိအမျိုးသားချင်း အပေါင်းတို့ကိုခေါ်ပင့်
၁၅ လေ၏။- ယာကုပ်သည်လည်း အဲဂုတ္တုပြည်သို့
သွား၍၊ ကိုယ်တိုင်မှစသော ငါတို့အဘများသည်
၁၆ သေလွန်ကြ၏။- ထိုသူတို့ကိုလည်း ရှေခင်မြို့သို့
ပို့ဆောင်သဖြင့်၊ ရှေခင်၏အဖဖြစ်သော ဟာမော်
၏သားတို့အား အဘိုးငွေကိုပေး၍ ဝယ်ပြီးဖြစ်
သော သင်းချိုင်းတွင်း၌ထားကြ၏။
၁၇ အာဗြဟံအား ဘုရားသခင် ကိန်ဆိုတော်မူ
သောဂတိတော်၏အချိန် ရောက်လာသော အခါ၊
၁၈ ထိုလူမျိုးသည်အဲဂုတ္တုပြည်၌တိုးပွား၍၊-ယော
သပ်ကို မသိမကျွမ်းသော မင်းကြီးတပါးပေါ်
၁၉ လာသည် တိုင်အောင် များပြားကြလေ၏။- ထို
မင်းကြီးသည် ငါတို့အဆွေအမျိုးကို ပရိယာယ်
ပြုသဖြင့်၊ သူငယ်များကို အသက်မရှင်စေခြင်း
ငှါပြစ်ထားရမည်အကြောင်း၊ ငါတို့အဘများကို
၂၀ ညှဉ်းဆဲနှိပ်စက်လေ၏။-ထိုအခါအလွန်အဆင်း
လှသောမောရှေကိုဖွားမြင်လျှင်၊ သုံးလပတ်လုံး
၂၁ အဖ၏အိမ်တွင်ကျွေးမွေးကြ၏။- နောက်မှ ပြစ်
ထားသည်ရှိသော်၊ ဖာရောဘုရင်၏သမီးတော်သည်
ကောက်ယူ၍ မိမိသားအရာ၌ မွေးစားလေ၏။-
၂၂ မောရှေသည်လည်း၊ အဲဂုတ္တုအတတ်ပညာအ
လုံးစုံတို့ကိုသင်၍၊ နှုတ်သတ္တိ၊ လက်သတ္တိရှိ၏။-
၂၃ အသက်လေးဆယ်စေ့သောအခါ၊ ဣသရေလအ
မျိုးသားဖြစ်သော မိမိညီအစ်ကိုတို့ကို အကြည့်
၂၄ အရှုသွားမည်ဟု အကြံရှိ၏။- အမျိုးသားချင်း
တယောက်သည်ညှဉ်းဆဲခံရသည်ကိုမြင်လျှင်

သူ့ဘက်၌နေ၍ အဲဂုတ္တုလူကိုကွပ်ဖျက်အားဖြင့်၊
ထိုညှဉ်းဆဲခံရသောသူအားအနိုင်ပေးလေ၏။-
၂၅ ဘုရားသခင်သည် ဤသူလက်ဖြင့် ငါတို့ကိုကယ်
နှုတ်တော်မူမည်အရာကိုညီအစ်ကိုတို့သည်နား
လည်လိမ့်မည်ဟုထင်မှတ်သော်လည်း၊ ထိုသူတို့
၂၆ သည် နားမလည်ဘဲနေကြ၏။- နက်ဖန်နေ့၌ အ
ချင်းချင်း ခိုက်ရန်ပြုကြသော သူတို့ရှိရာသို့ သွား
၍၊ အချင်းလူတို့၊ ညီအစ်ကိုချင်းဖြစ်လျက် နှင့်အ
ဘယ်ကြောင့်တယောက်ကို တယောက်ညှဉ်းဆဲ
ကြသနည်းဟု ဆို၍၊ ရန်ငြိမ်းရာသို့ သွေးဆောင်
၂၇ သည်ရှိသော်၊- အိမ်နီးချင်းကိုညှဉ်းဆဲသောသူ
က၊ အဘယ် သူ သည် သင့်ကို ငါတို့ အပေါ်မှာ
အကဲအမှူး၊ တရား သူကြီး အရာ ၌ ခန့် ထားသ
၂၈ နည်း။-မနေ့က အဲဂုတ္တုလူကိုသတ်သကဲ့သို့ ငါ့ကို
သတ်လိုသလော ဟု ဆိုလျှက်၊ မောရှေကို ပယ်
၂၉ ၏။- ထိုစကားကိုကြားလျှင်၊ မောရှေသည်ပြေး
၍မိဒျန်ပြည်၌ဧည့်သည်ဖြစ်လျက် နေသည်တွင်
သားနှစ်ယောက်ကိုမြင်လေ၏။
၃၀ အနှစ်လေးဆယ်လွန်သောအခါ၊ သိနာတောင်
ခြေရင်းတောတွင်၊ မီးတောက်သောချုံ၌ ထာဝရ
၃၁ ဘုရား၏ကောင်းကင်တမန်ထင်ရှား၏။-ထိုရူပါ
ရုံကိုမြင်သောအခါမောရှေသည် အံ့ဩ၍စေ့
၃၂ စေ့ကြည့်ရှုခြင်းငှါအနားသို့ချဉ်းကပ်လျှင်၊-ငါ
ကား၊ သင့် ဘိုးဘေး တို့ ၏ ဘုရား၊ အာဗြဟံ ၏
ဘုရား၊ ဣဇာက်၏ဘုရား၊ ယာကုပ်၏ဘုရားဖြစ်
၏ဟု၊ ထာဝရဘုရား၏ဗျာဒိတ်တော်အသံထွက်
တော်မူ၏။ ထိုအခါမောရှေသည်တုန်လှုပ်လျက်
၃၃ စေ့စေ့မကြည့်ဝံ့။-ထာဝရဘုရားကလည်း၊ သင်
၏ ခြေနင်းကို ချွတ်လော့။ သင် နင်း သော အရပ်
၃၄ ကား၊ သန့်ရှင်းသောမြေဖြစ်၏။- အဲဂုတ္တုပြည်
၌ရှိသောငါ၏လူတို့သည်ခံရသောညှဉ်းဆဲခြင်း
ကိုငါစေ့စေ့မြင်ခဲ့ပြီ၊ သူတို့ညည်းတွားမြည်တမ်း
သော အသံ ကို လည်း ငါ ကြား ခဲ့ပြီ၊ သူ တို့ ကို
ကယ် နှုတ် ခြင်း ငှါ ငါ ဆင်း လာ ပြီ၊ ယခု သွား
လော့၊ သင့်ကိုအဲဂုတ္တုပြည်သို့ ငါစေလွှတ်မည်
၃၅ ဟုဗျာဒိတ်တော်ရှိ၏။- အဘယ်သူသည်သင့်ကို
အကဲအမှူး၊ တရားသူကြီးအရာ၌ ခန့် ထား သ
နည်းဟု၍၊ အငြင်းအပယ်ခံရသော ထိုမောရှေ
ကို၊ အကဲအမှူး၊ ကယ်လွှတ်သောသူဖြစ်စေခြင်း
ငှါ၊ ဘုရားသခင်သည်ချုံ၌ထင်ရှားသောကောင်း
၃၆ ကင်တမန်အားဖြင့်စေခန့်တော်မူ၏။-ထိုသူသည်
ဣသရေလအမျိုးသားတို့ကို နှုတ်ဆောင်၍ အ

နှင့် ဝေးဆယ်ပတ်လုံး ဆဲဂုတ္တုပြည်၌၎င်း၊ ရဲ
ယ်ထယ်၌၎င်း၊ တော၌၎င်း၊ နိမိတ်ထူးဆန်းအံ့
ဩဘွယ်သောအမှုတို့ကိုပြုလေ၏။
၃၇ သင်တို့၏ ဘုရားသခင် ထာဝရဘုရားသည်၊
သင်တို့အမျိုးသားချင်းတို့အထဲ၌ငါနှင့်တူသော
ပရောဖက် တပါးကို သင်တို့ အဘို့ ပေါ်ထွန်းစေ
တော်မူမည်။ ထိုပရောဖက်၏စကားကိုနားထောင်
ရကြမည်ဟု၊ ဣသရေလ အမျိုး သား တို့အား
ပြောဆိုသောသူကား၊အခြားသူမဟုတ်၊ထိုမော
၃၈ ရှေပင်ဖြစ်သတည်း။- ထိုသူသည် တောတွင်ရှိ
သောအစည်းအဝေး၌၎င်း၊ သိနာတောင်ပေါ်မှာ
သူကိုနှုတ်ဆက်သောကောင်းကင်တမန်နှင့်၎င်း၊
ငါတို့အဘများနှင့်၎င်းရှိ၏။ထိုသူသည်ငါတို့အား
အပ်ပေးခြင်းငှါ အသက် ရှင် စေ သော ဗျာ ဒိတ်
၃၉ တော်ကိုခံလေ၏။- ထိုသူ၏စကားကိုငါတို့အဘ
၄၀ များသည်နားမထောင်လိုဘဲလွှတ်ပယ်၍၊- ငါ
တို့ရှေ့မှာ သွားရသော ဘုရားတို့ကို ငါတို့ အဘို့
လုပ်ပါ။ ငါတို့ကိုအဲဂုတ္တုပြည်မှ နှုတ်ဆောင်ခဲ့
သောထိုမောရှေ၌အဘယ်သို့ဖြစ်သည်ကိုငါတို့
မသိဟု၊ အဲဂုတ္တုပြည်သို့ ပြန်ချင်သော စိတ်နှင့်
၄၁ အာရုန်ကိုပြောဆိုကြ၏။- ထိုနေ့ရက် ကာလ၌
နွားသငယ်ကို လုပ်၍၊ ထိုရုပ်တုအား ယဇ်ပူ
ဇော်သဖြင့် မိမိတို့ထက်နှင့် လုပ်သော အရာ၌
၄၂ ပင်ပျော်မွေ့ကြ၏။-အနာဂတ္တိကျမ်း၌ လာသည်
ကား၊ အိုဣသရေလအမျိုး၊ သင်တို့သည် မိရင်
သော တိမ်ရှိန္နာန်နှင့်ယဇ်များကို တော၌ အနှစ်
လေးဆယ်ပတ်လုံးငါ့အားပူဇော်ကြသလော။-
၄၃ သင်တို့သည်မောလုပ်၏တဲနှင့်၊ သင်တို့ဘုရားရင်
ဖန်၏ကြယ်တည်းဟူသောကိုးကွယ်ခြင်းငှါမိမိတို့
လုပ်သောပုံတို့ကိုဆောင်ရွက်ကြပြီတကား၊ ထို
ကြောင့်၊ ငါသည်သင်တို့ကိုဗာဗုလုန်မြို့တဖက်
သို့ ဆောင်သွားမည်ဟု ကျမ်း၌ လာရှိသည်နှင့်
အညီ၊ဘုရားသခင်သည် မှတ်နှာတော်ကိုလွှဲ၍၊
ကောင်းကင်တန်ဆာများ၊တို့အားဝတ်ပြုစေခြင်း
ငှါထိုသူတို့ကိုစွန့်ပြစ်ထားတော်မူ၏။
၄၄ မောရှေ မြင်ရသော ပုံနှင့်အညီ၊ သက် သေ ခံ
တော်မူချက် ဓမ္မပဋိညာဉ် တဲတော်ကို လုပ်ရမည်
အကြောင်း၊ အမိန့်တော်ရှိသောသူမှာထားတော်
မူသည်အတိုင်း၊၊ ထိုတဲတော်သည်တောတွင်ငါ
၄၅ တို့အဘများ၌ ရှိ၏။- နောက် ကျသော ငါတို့အဘ
များသည်၊ ထိုတဲတော်ကို တပါးအမျိုးသားတို့
ပိုင်သောမြေထဲသို့ ယောရှုနှင့်အတူဆောင်သွင်း
ကြ၏။ ထိုအခါ၊ အမျိုးသားတို့ကို ဘုရားသခင်
သည်ဒါဝိဒ်မင်းလက်ထက်တိုင်အောင်၊ ငါတို့အ
၄၆ ဘများထံမှ နှင်ထုတ်တော်မူ၏။- ထိုဒါဝိဒ်သည်
ဘုရားသခင်၏ကျေးဇူးတော်ကိုခံရ၍၊ယာကုပ်
၏ ဘုရားသခင် ကျိန်းဝပ်တော်မူရာ အရပ်ကို
၄၇ ရှာခြင်းငှါ တောင့် တ၏။- ရှောလမုန် သည်
၄၈ တည်း၊ဗိမာန်တော်ကိုတည်ဆောက်ရ၏။- သို့
သော်လည်း၊ ကောင်းကင်ဘုံသည် ငါ့ပလ္လင်ဖြစ်
၄၉၊၅၀ ၏။- မြေကြီးသည် ငါ့ခြေတင်ရာခုံဖြစ်၏။- အ
ဘယ်သို့သော ဗိမာန်ကို ငါ့အဘို့ တည်ဆောက်
ကြမည်နည်း။အဘယ်အရပ်သည် ငါကျိန်းဝပ်
ရာ အရပ်ဖြစ်မည်နည်း။ ငါ့လက်သည် ဤအရာ
အလုံးစုံတို့ကို ဖန်ဆင်းသည် မဟုတ်လော ဟု၊
ထာဝရဘုရား၏ ဗျာဒိတ်တော်အရှုတ်ကို ပရော
ဖက်ပြန်ကြားသည်နှင့် အညီ၊ အမြင့်ဆုံးသော
ဘုရားသည်လူတို့ထက်ဖြင့်လုပ်သောဗိမာန်၌
ကျိန်းဝပ်တော်မူသည်မဟုတ်။
၅၁ ထည်ပင်းမိုင် မာ၍၊ နှစ်လုံးဖြင့်၎င်း၊ နားဖြင့်
၎င်း အရေဖျားလှီးခြင်းကို မခံ သောလူတို့၊ သင်
တို့သည် သန့်ရှင်းသော ဝိညာဉ်တော်ကို အစဉ်
မပြတ်ဆန့်ကျင်ဘက်ပြုလေ့ရှိကြ၏။ သင်တို့သို့
၅၂ ဘေးများ၏အလေ့နှင့်သင်တို့အလေ့တူ၏။- သင်
တို့ ဘိုးဘေးများသည် အဘယ်ပရောဖက်ကိုမှ
မညှဉ်းဆဲဘဲ နေသနည်း။ ဖြောင့်မတ်သော သူ
ကြွလာ တော် မူမည် အကြောင်း၊ အရာကို ဟော
ပြော ပြည့်နှင့်သောသူ တို့ကို ကွပ်မျက် ကြ၏။ ထို
ဖြောင့် မတ်သော သူကိုပင် ယခုထည်း၊ သင်တို့
၅၃ သည်အပ်နှံ၍အသေသတ်ကြပြီ။- သင်တို့သည်
ကောင်းကင်တမန်များ ခင်းကျင်းသောအားဖြင့်
ပညတ်တရားတော်ကိုခံရသော်လည်း၊ မစောင့်
မရှောက်ကြဟု၊သတေဖန်မြွက်ဆို၏။
၅၄ ထိုစကားကိုကြားလျှင်နှစ်လုံးကွဲပြတ်မတတ်
ဖြစ်၍၊သတေဖန်၌အံသွားခဲကြိတ်ခြင်းကိုပြုကြ
၅၅ လေ၏။- သူသည်လည်း သန့်ရှင်းသော ဝိညာဉ်
တော်နှင့် ပြည့်သ ဖြင့်၊ ကောင်း ကင်သို့ ရှေ့ရှု
ကြည့်မျှော်၍၊ ဘုရားသခင်၏ဘုန်းတော်ကို၎င်း၊
ဘုရား သခင်၏ လက်ျာ တော်ထက်၌ ထေ ရှုရပ်
၅၆ နေသည်ကို၎င်း မြင်လျှင်၊- ကြည့်ပါ၊ ကောင်း
ကင် ပွင့်ဖွစ်သည်ကို၎င်း၊ လူသားသည် ဘုရား
သခင်၏လက်ျာတော်ထက်၌ ရပ်နေသည်ကို၎င်း
၅၇ ငါ မြင်သည်ဟု ဆို၏။- ထိုသူတို့သည် ပြင်းစွာ
သောအသံနှင့်ထက်ကြော်၍ နားကိုမိတ်ဆို့လျှက်

၅၇ သူဆီသို့ ညီညွတ်စွာတဟုန်တည်းပြေး၍၊- မြို့
ပြင်သို့ နှင်ထုတ်ပြီးမှ ကျောက်ခဲနှင့် ပြစ်ကြ၏၊
သက်သေခံ တို့ သည် လည်း၊ မိမိတို့ အဝတ်ကို
ရှောလု အမည်ရှိသော လုလင်၏ခြေရင်း၌ ထား
၅၈ ကြ၏၊-ကျောက်ခဲနှင့်ပြစ်ကြစဉ်သတေဖန်သည်
ပဌနာပြုလျက်၊သခင်ယေရှု၊အကျွန်ုပ်၏ဝိညာဉ်
၆၀ ကို သိမ်းယူတော်မူပါဟု လျှောက် ဆို၏၊- ဒူး
ထောက်လျက်၊ သခင်၊ ဤသူတို့ ပြုသောဒုစရိုက်
အပြစ်ကို မှတ်တော်မမူပါနှင့်ဟု၊ ကြီးသော အ
သံနှင့် ကျွေးကြော်ပြီးမှ ကွယ်လွန်၏၊ သူကို
ကွပ်မျက်သောအမှုကိုရှောလုသည်လည်းဝန်ခံ
လျက်ရှိ၏။

၈

၁ ထိုအခါယေရုရှလင်မြို့၌ရှိသောအသင်းတော်
သည် ပြင်းစွာသော ညှဉ်းဆဲခြင်းကိုခံရသဖြင့်
တမန်တော်တို့မှတပါး၊ သင်းဝင်သူအပေါင်းတို့
သည်ယုဒပြည်၊ ရှမာရိပြည်အရပ်ရပ်တို့၌အနှံ့
၂ အပြားကွဲပြားကြ၏၊-ဘုရားကိုရိုသေသောသူတို့
သည်သတေဖန်ကိုသင်းဂြိုဟ်၍ ပြင်းစွာသောငို
၃ ကြွေးမြည်တမ်းခြင်းကိုပြုကြ၏၊-ရှောလုသည်
အသင်းတော်ကို ဖျက်ဆီးလေ၏၊ အိမ် များသို့
ဝင် ပြီး လျှင်၊ ယောကျ်ား မိန်းမ တို့ ကို ဆွဲ ငင်၍
၄ ထောင်ထဲ၌ချောင်ထားတတ်၏၊-ထိုကြောင့်၊အ
ရပ်ရပ်သို့ ကွဲပြားသော သူတို့သည် လှည့်လည်
၍၊ နှုတ်ကပတ်တော်တည်းဟူသော ဧဝံဂေလိ
တရားကိုဟောပြောကြ၏။
၅ ဖိလိပ္ပုသည်လည်း၊ရှမာရိမြို့သို့သွား၍ခရစ်
၆ တော်၏အကြောင်းကိုဟောလေ၏၊- လူအစုအ
ဝေးတို့သည်ကြား၍ ဖိလိပ္ပုပြုသောနိမိတ်လက္ခ
ဏာတို့ကိုမြင်သောအခါ၊ သူ၏စကားကို တညီ
၇ တညွတ်တည်းနားထောင်ကြ၏၊- အကြောင်းမူ
ကား၊ နတ်ဆိုးစွဲသော သူများတို့၏ အထဲမှ နတ်
ဆိုးတို့သည် ပြင်းစွာ သော အသံနှင့် ဟစ်ဟစ်
လျက်ထွက်သွားကြ၏၊ကိုယ်မလှုပ်နိုင်သောသူ၊
ခြေမစွမ်းသော သူအများတို့သည်ထည်း၊ ပက
၈ တိအဖြစ်သို့ ရောက်ကြ၏၊- ထိုမြို့သူ မြို့သားတို့
သည် ဝမ်းမြောက်ခြင်းရှိကြ၏။
၉ ရှိမုန်အမည်ရှိသော သူတယောက်သည်၊ ထို
မြို့၌နတ်ဝိဇ္ဇာအတတ်နှင့်ပြုပြင်၍၊ ငါသည်ထူး
ဆန်း သော သူ ဖြစ်သည် ဟု ဆို လျက်၊ ရှမာရိ
ပာမျိုးသားတို့ကို မိန်းမောတွေဝေစေခြင်းငှါပြု
၁၀ ၏၊ လူကြီးလူငယ်ရှိသမျှတို့ကလည်း၊ဤသူသည်
ဘုရားသခင်၏ မဟာတန်ခိုးတော် ဖြစ်သည်ဟု
၁၁ ဆိုလျက်၊ထိုသူ၌ဆည်းကပ်ကြ၏၊- ဆည်းကပ်
သည် အကြောင်းကား၊ သူတို့ကို မိန်းမော တွေ
ဝေ စေခြင်းငှါ၊ ထို သူသည် နတ်ဝိဇ္ဇာ အတတ်
၁၂ အားဖြင့် ကြာမြင့်စွာ ပြုလျက် နေ၏၊- ဖိလိပ္ပု
သည်၊ ဘုရားသခင်၏ နိုင်ငံတော်နှင့်ဆိုင်၍၊ ယေရှု
ခရစ်၏နာမတော်နှင့်ဆိုင် စပ်ဆိုင်သော ဧဝံဂေလိ
တရားကိုဟောပြော၍၊ ထိုသူ တို့သည်ယုံကြည်
သောအခါ၊ ယောကျ်ားမိန်းမတို့သည်နှစ်ခြင်းကို
၁၃ ခံကြ၏၊-ရှိမုန်သည်ထည်း၊ကိုယ်တိုင်ယုံကြည်
သည်ဖြစ်၍ နှစ်ခြင်းကိုခံပြီးမှ၊ ဖိလိပ္ပုထံ၌ မြဲစွဲ
ဆည်းကပ်သဖြင့်၊ ထူးဆန်းသော တန်ခိုး ကြီး
သော နိမိတ် လက္ခဏာ များကို မြင်၍ မိန်းမော
တွေဝေလျက်ရှိသေ၏။
၁၄ ရှမာရိ မြို့သားတို့သည် ဘုရားသခင်၏ နှုတ်
ကပတ် တရား တော်ကို ခံယူကြပြီဟု၊ ယေရုရှ
လင်မြို့၌ ရှိသော တမန်တော် တို့သည် သိတင်း
ကြားလျှင်၊ပေတရုနှင့်ယောဟန်တို့ကိုစေလွှတ်
၁၅ ကြ၏၊- ထိုကြွသူ့သားတို့သည် သခင်ယေရှု၏
၁၆ နာမ၌ နှစ်ခြင်းကို ခံရုံမျှသာရှိသဖြင့်၊- တစုံတ
ယောက်သောသူအပေါ်၌သန့်ရှင်းသောဝိညာဉ်
တော်သည်သက်ရောက်တော်မမူသေးသည်ဖြစ်
၍၊တမန်တော်တို့သည်ရောက်ကြလျှင်၊ ဝိညာဉ်
တော်ကိုခံရမည်အကြောင်း၊ ထိုမြို့သူမြို့သားတို့
၁၇ အဖို့ဆုတောင်း၍၊- ထိုသူတို့အပေါ်၌ လက်ကို
တင်သော အားဖြင့် သူတို့သည် သန့် ရှင်း သော
ဝိညာဉ်တော်ကိုခံရကြ၏။
၁၈ တမန်တော်တို့ လက်ကို တင်သော အားဖြင့်
သန့်ရှင်းသော ဝိညာဉ်တော်သက်ရောက်သည်
၁၉ ကို ရှိမုန်မြင်လျှင်၊ ငွေကို ယူဆောင်ခဲ့၍၊- အ
ကျွန်ုပ်၏လက်တင်ခြင်းကိုခံရသောသူသည်သန့်
ရှင်းသောဝိညာဉ်တော်ကို ခံစေမည်အကြောင်း
အကျွန်ုပ်အားအခွင့်ပေးပါဟု တောင်းသော်၊-
၂၀ ပေတရုက၊ ဘုရားသခင်၏ ကျေးဇူးတော်ကိုငွေ
နှင့် ဝယ်ယူမည်ဟု အကြံရှိသောကြောင့်၊ သင်
နှင့်တကွသင်၏ ငွေသည်ပျက်စီးခြင်းသို့ ရောက်
၂၁ ပါစေ၊- သင်သည် ဤအမှုအရာနှင့် မဆက်ဆံ
သောသူဖြစ်၏၊ အကြောင်းမူကား၊ သင်၏ စိတ်
နှလုံးသည်ဘုရားသခင်ရှေ့တော်၌ဖြောင့်မတ်
၂၂ ခြင်းမရှိ၊-ထိုကြောင့်၊ သင်၌ယုတ်မာဆိုးညစ်သော
အမှုကိုနောင်တရလော့၊သင်၏စိတ်နှလုံး၌ကြံ
စည်ခြင်းအပြစ်ကိုလွှတ်ကောင်း လွှတ်လိမ့်မည်

၂၃ ဖြစ်၍ ဘုရားသခင်ကိုတောင်းပန်လော့။ သင်
သည်ခါးစွာသော သည်းခြေဖြစ်သည်ဖြစ်၍၊ ဒုစ
ရိုက်အနှောင်အဖွဲ့နှင့် မလွတ်ကြောင်းကို ငါသိ
၂၄ မြင်သည်ဟုဆို၏။- ရှိမုန်ကလည်း၊ မိန့်တော်မူ
သော အရာ တစုံ တခု မျှ အကျွန်ုပ် အ ပေါ်သို့ မ
ရောက်ပါမည်အကြောင်း၊ ထာဝရဘုရားကိုအ
ကျွန်ုပ်အဖို့အလို့ငှါ ဆုတောင်းတော်မူကြပါဟု
၂၅ ပြန်ပြော၏။-တမန်တော်တို့သည်သက်သေခံ၍
အရှင်ဘုရား၏နှုတ်ကပတ်တရားတော်ကို ဟော
ပြီးမှ၊ ယေရုရှလင်မြို့သို့ပြန်သွားရာ၊ ရှမာရိရွာ
များတို့၌လည်း ဧဝံဂေလိ တရားကို ဟောပြော
ကြ၏။

၂၆ ထိုနောက် ထာဝရ ဘုရား ၏ ကောင်း ကင် တမန်
သည်ဖိလိပ္ပုအား၊သင်ထ၍၊ယေရုရှလင်မြို့မှဂါ
ဇမြို့သို့သွားရာတောလမ်းတွင် တောင်မျက်နှာ
သို့သွားလော့ဟုဆိုသည်အတိုင်း၊ဖိလိပ္ပုသည်
၂၇ ထ၍ သွားလေ၏။-ထိုအခါဇဲသလောပိပြည်ကို
အစိုးရသောကန္ဒာကေမိဖုရား၏ဘဏ္ဍာတိုက်စိုးဖြစ်သော
အမတ်ဖြစ်၍၊ ဘဏ္ဍာတော်ရှိသမျှကို အုပ်စိုးရ
သော အဲသယောပိ ပြည်သား တယောက်သည်
ကိုးကွယ်ခြင်း ငှါလို့ငှါ ယေရုရှလင်မြို့သို့ သွား
၂၈ ၍၊- ပြန်စဉ်တွင် မိမိရထားပေါ်၌ ထိုင်လျက် ပ
ရောဖက်ဟေရှာယ၏ကျမ်းစာကို ဖတ်လေ၏။-
၂၉ ဝိညာဉ်တော် ကလည်း၊ ထိုရထားသို့ ချဉ်းကပ်
၍ မှီဝဲလော့ဟု၊ ဖိလိပ္ပုအားမှာထားတော် မူ
၃၀ သတည်း။- ဖိလိပ္ပုသည်ရထားသို့ပြေး၍ ပရော
ဖက်ဟေရှာယ၏ကျမ်းစာ၌ ဖတ်သည်ကိုကြား
လျှင်၊ ဖတ်သော အရာကို နားလည်ပါ၏ လော
၃၁ ဟုမေးမြန်း၏။- ထိုအမတ်ကလည်း၊ လမ်းပြ
လွှင်သော သူမရှိလျှင်၊ အဘယ်သို့ နားလည်နိုင်
မည်နည်းဟု ဆို ပြီးမှ၊ မိမိနှင့်အတူ ဖိလိပ္ပုတက်
၍ထိုင်နေပါမည်အကြောင်းတောင်းပန်၏။
၃၂ ကျမ်းစာ ၌ ဖတ်သော အချက် ဟူမူကား၊ အ
သေသတ်ခြင်းငှါဆောင်သွားသောသိုးကဲ့သို့ သူ
ကိုဆောင်သွား၍၊ သိုးသငယ်သည် အမွေးညှပ်
သောသူ ရှေ့မှာ မမြည်ဘဲ နေသကဲ့သို့ သူသည်
၃၃ နှုတ်ကိုမဖွင့်ဘဲနေ၏။- နှိမ့်ချခြင်းကို ခံစဉ်တွင်
သူတပါးတို့သည် ထိုသူကို မတရားသဖြင့် စီရင်
ကြ၏၊ ထိုသူ၏အသက်ကို မြေကြီးက သိမ်းရုပ်
သည်ဖြစ်၍၊ သူ၏ အမျိုးအနွယ်ကို အဘယ်သူ
၃၄ ဖြည့်နိုင်မည်နည်းဟုကျမ်းစာလာသတည်း။- ထို
အမတ်ကလည်း၊ ပရောဖက်သည် အဘယ်သူကို

ရည်မှတ်၍ ဤသို့ဆိုပါသနည်း၊ ကိုယ်ကိုတည်း
ဆိုလိုသလော၊ သူတပါးကိုတည်းဆိုလိုသလော
ဟု တောင်း ပန် လျက်၊ ဖိလိပ္ပု အား မေး မြန်း
၃၅ လျှင်၊-ဖိလိပ္ပုသည်မိမိနှုတ်ကို ဖွင့်၍၊ ထိုကျမ်း
စာချက်ကို အစပြု လျက်၊ ယေရှု၏ အကြောင်း
တည်းဟူသောဧဝံဂေလိတရားကိုဟောလေ၏။-
၃၆ ထိုသို့လမ်း၌သွားကြစဉ်ရေရှိရာသို့ရောက်၍၊
အမတ် က လည်း၊ ဤအရပ်တွင် ရေရှိပါ၏၊ အ
ကျွန်ုပ်ကို နှစ်ခြင်း မခံစေ ခြင်းငှါ မည်သည် အ
ကြောင်းဆီးတားပါသနည်းဟု ပြောဆိုလျှင်၊-
၃၇ ဖိလိပ္ပုက၊ သင်သည် စိတ်နှလုံးအကြွင်းမဲ့ယုံ
ကြည်လျှင် ခံရသည်ဟု ဆို လေ၏၊ အမတ် က
လည်း၊ ယေရှုခရစ်သည် ဘုရား သခင်၏ သား
တော်ဖြစ်တော်မူကြောင်းကိုအကျွန်ုပ် ယုံကြည်
၃၈ ပါသည်ဟုဝန်ခံ၍၊- ရထားကိုရပ်စေခြင်းငှါမိ
ရင်ပြီးမှ၊ ဖိလိပ္ပုသည် ထိုအမတ်နှင့်တကွ ရေ
၃၉ ထဲသို့ဆင်း၍နှစ်ခြင်းကိုပေး၏၊- ရေထဲကတက်
ကြလျှင်၊ ထာဝရဘုရား၏ ဝိညာဉ်တော် သည်
ဖိလိပ္ပု ကို ဆောင် ယူ တော် မူ၍၊ အ မတ် သည်
ဖိလိပ္ပု ကို နောက် တဖန် မတွေ့ မမြင် ရ၊ ဝမ်း
မြောက် ဝမ်းသာ ခြင်းနှင့် မိမိ သွားရသောလမ်း
၄၀ ကို သွားလေ၏။-ဖိလိပ္ပုသည်လည်းအာဇုတ်မြို့
၌ပေါ်လာ၍၊ ထိုမြို့မှကဲသရိမြို့တိုင်အောင် မြို့ရွာ
အစဉ်အတိုင်း ရှောက်သွား၍ ဧဝံဂေလိတရား
ကိုဟောလေ၏။

၉

၁ ရှောလု သည် ကား၊ အရှင် ဘုရား ၏ တပည့်
တော် တို့ တဖက်၌ ခြိမ်းခြောက်၍၊ အသေသတ်
၂ ခြင်းငှါပြင်းစွာအသက်ရှူသဖြင့်၊- ထိုလမ်းသာ
ဝင်သော ယောက်ျား မိန်းမတို့ကို တွေ့ လျှင်၊ ချည်
နှောင်၍ ယေရု ရှလင် မြို့သို့ ပို့ဆောင် ရမည် အ
ကြောင်း၊ ဒမာသက်မြို့၌ရှိသောတရားစရပ် များ
တို့ ထံသို့ မှာစာကို ပေး ပါဟု၊ ယဇ်ပုရောဟိတ်
၃ မင်းထံ၌ဝင်၍တောင်း ပြီးမှ၊- သွား၍ဒမာသက်
မြို့ အနီးသို့ ရောက်သောအခါ၊ ကောင်း ကင် ထဲ
က အလင်းသည် လျှပ်စစ်ကဲ့သို့ ရုပ် ခနဲ ထွန်း
၄ တောက်လေ၏။- ရှောလုသည်မြေပေါ်မှာလဲ၍
နေစဉ်၊ ရှောလု၊ ရှောလု၊ အဘယ်ကြောင့်ငါ့ကို
ညှဉ်းဆဲသနည်းဟု၊ မိမိအားပြောသောစကား
၅ သံကို ကြားလျှင်၊- အရှင်၊ ကိုယ်တော်သည်အ
ဘယ်သူနည်းဟု မေးလျှောက်၏၊ အရှင် ဘုရား
ကလည်း၊ ငါကား၊ သင်ညှဉ်းဆဲသော ယေရှု

၇ ဖြစ်ထသည်။- ထိုသောထည်၊ ထ၍မြို့သို့ ဝင်
လော့၊ သင်ပြုရမည်အမှုကို ပြော လိမ့် မည်ထု
၈ မိန့်တော်မူ၏။- ရှောလုနှင့် အတူသွားသော သူ
တို့သည် အသံကိုကြားရုံမျှသာရှိ၍၊ အထယ်သူ
ကိုမျှမမြင်ဘဲ မိန်းမောတွေဝေလျက် ရပ်နေကြ
၉ ၏။- ရှောလု သည်ထည်၊ မြေမှထ၍ မျက်စိကို
ဖွင့်သော်လည်း၊ အဘယ်သူကိုမျှမမြင်နိုင်သည်
ဖြစ်၍၊ သူ၏လက်ကိုဆွဲလျက် ဒမာသက်မြို့သို့
၉ ဆောင်ကြ၏၊- သုံးရက်ပတ်လုံးမျက်စိမမြင်၊မ
စားမသောက်ဘဲနေလေ၏။
၁၀ ထိုအခါ အာနနိ အမည်ရှိသော တပည့်တော်
တယောက် သည် ဒမာသက်မြို့၌ ရှိ၏၊ ထိုသူကို
အစင်ဘုရား၊သင်္ဂျာပိတ်တော်အား၊ဖြင့်၊အာနနိ
ဟူ၍ခေါ်တော်မူလျှင်၊ အာနနိက၊ သခင်ဘုရား၊
၁၁ အကျွန်ုပ်ရှိပါသည်ဟုလျှောက်၏။- သခင်ဘုရား
ကထည်၊ သင်သည်ထ၍ ထမ်းဖြောင့်အမည်ရှိ
သော ထမ်း သို့ သွား လော့၊ ရှောလု အမည် ရှိ
သော တာရှုမြို့သားကိုယုဒ၏အိမ်၌ရှာဖွေလော့၊
အကြောင်းမူကား၊ထိုသူသည်ဆုတောင်းလျက်
၁၂ နေ၏။- မိမိမျက်စိကိုမြင်ပြန်စေခြင်းငှါအာနနိအ
မည်ရှိသော လူသည်ဝင်၍၊ မိမိအပေါ်၌ ထက်
တင်သည်ကိုဗျာဒိတ်တော်အား၊ဖြင့်မြင်ထပြီဟု
၁၃ မိန့်တော်မူ၏။- အာနနိကထည်၊ သခင်ဘုရား၊
ထိုသူသည် ယေရုရှလင်မြို့၌ ကိုယ်တော်၏ သန့်
ရှင်းသူတို့ကို အဘယ်မျှ ထောက်ပင် ညှဉ်းဆဲ
သည်ကိုလူများ၊ပြော၍ အကျွန်ုပ်ကြားရပါပြီ။-
၁၄ ဤအရပ်၌လည်း၊ ကိုယ်တော်ကိုပဌနာပြုသော
သူရှိသမျှတို့ကိုချည်နှောင်ရမည်အခွင့်ကို၊ ယဇ်
ပရောဟိတ် အ ကြီး တို့ ထံ၌ ရပါ သည် ဟု ပြန်
၁၅ လျှောက်၏။-သခင်ဘုရားကလည်း၊ထိုသူကား၊
တပါးအမျိုးသားတို့နှင့် ရှင်ဘုရင်တို့ ထံသို့၎င်း၊
ဣသရေလ အမျိုးသားတို့ရှိရာသို့၎င်း၊ ငါ၏နာမ
ကိုဆောင်စေခြင်းငှါငါရွေးကောက်သောတန်
၁၆ ဆာဖြစ်၏။-အကြောင်းမူကား၊ ထိုသူသည်ငါ၏
နာမကြောင့် အဘယ်မျှထောက်ပင် ဆင်းရဲခံရ
မည်ကိုငါသည်သူအား၊ပြမည်၊ထိုကြောင့်၊သင်
၁၇ သွားလော့ဟု၊ အာနနိအား၊မိန့်တော်မူ၏။- အာ
နနိသည် ထည်၊ သွား၍ အိမ်သို့ ရောက် လျှင်၊
ရှောလုအပေါ်၌မိမိထက်ကိုတင်၍၊ ညီရှောလု၊
သင်လာသောထမ်း၌သင့်အား၊ထင်ရှား၊တော်မူ
သောသခင်ယေရှုသည်သင်၏မျက်စိမြင်ပြန်စေ
ခြင်းငှါ၎င်း၊သင့်ကိုသန့်ရှင်းသော ဝိညာဉ်တော်
နှင့်ပြည့်စေခြင်းငှါ၎င်း၊ ငါ့ကိုစေခန့်တော်မူသည်
၁၈ ဟုပြောဆို၏။- ထိုခဏ၌ရှောလု၏ မျက်စိမှငါး
ကြေးကွာကျသကဲ့သို့ ဖြစ်၍၊ မျက်စိ မြင်ပြန်သ
ဖြင့်ထ၍ ဗ္ဗတိဇံခြင်းကိုခံပြီးလျှင်၊ အစာအာဟာရ
ကိုသုံးဆောင်၍အားဖြည့်လေ၏။
၁၉ ထိုနောက်၊ရှောလုသည်ဒမာသက်မြို့၌ရှိသော
တပည့်တော်တို့နှင့်အတူကာလအတန်ကြာနေ
၂၀ ၍၊- ယေရှုသည်ဘုရားသခင်၏ သားတော်ဖြစ်
ကြောင်းကိုတရားဇရပ်တို့၌ မဆိုင်းမလင့်ဟော
၂၁ လေ၏။-ကြားသောသူအပေါင်းတို့သည်မိန်းမော
၍၊ ဤသူကား၊ ထိုသခင်ကို ပဌနာပြုသောလူတို့
ကိုယေရုရှလင်မြို့၌ဖျက်ဆီးသည်သာမက၊ ထို
သူများကိုချည်နှောင်၍ယဇ်ပရောဟိတ်အကြီး
တို့ထံသို့ပို့ဆောင်ခြင်းငှါ၊ ဤအရပ်သို့လာသော
၂၂ သူဖြစ်သည်မဟုတ်လောဟု ဆိုကြ၏။- ရှောလု
သည်လည်း၊အားတိုးပွားသဖြင့်၊ ဒမာသက်မြို့၌
နေသောယုဒလူတို့သည် ပြောသမျှသော စကား
ကိုချေ၍၊ယေရှုသည်ခရစ်တော်ဖြစ်ကြောင်းကို
ထင်ရှားစွာပြ၏။
၂၃ ကာလကြာမြင့်ပြီးမှ၊ရှောလုကိုသတ်မည့်သော
၂၄ ငှါ၊ယုဒလူတို့သည်အချင်းချင်းတိုင်ပင်ကြ၏။-ထို
အကြံအစည်ကိုရှောလုသည်သိ၏၊ သူကိုသတ်
မည့်သောငှါမြို့တံခါးတို့ကိုနေ့ညဉ့်မပြတ်စောင့်
၂၅ ကြသောကြောင့်၊- တပည့်တော်တို့သည်ညဉ့်
အခါ သူကိုယူ၍ တောင်း၌ ထည့်ပြီးလျှင် မြို့ရိုး
ပေါ်ကလျှော့ချကြ၏။
၂၆ ယေရုရှလင်မြို့သို့ ရောက်သောအခါ၊ တပည့်
တော်တို့နှင့်ပေါင်းဖော်မည်ပြုသော်၊သူသည်တ
ပည့်တော်ဖြစ်ကြောင်းကိုတပည့်တော်အပေါင်း
၂၇ တို့သည်မယုံသဖြင့်သူကိုကြောက်ရွံ့ကြ၏။-ထို
အခါဗာနဗသည်သူကို ခေါ်၍တမန်တော်များ
ထံသို့ပို့ဆောင်ပြီးလျှင်၊ အထက်ကရှောလုသည်
လမ်းခရီး၌ သခင်ဘုရားကိုမြင်သည်ဟူ၍၎င်း၊
သူအား မိန့်တော်မူသည်ဟူ၍၎င်း၊ ဒမာသက်မြို့
၌ယေရှု၏နာမတော်ကို အမှီပြုလျက်၊ ရဲရင့်စွာ
၂၈ ဟောသည်ဟူ၍၎င်း ပြောလေ၏။- ထိုနောက်မှ
ရှောလုသည်ယေရုရှလင်မြို့၌တမန်တော်တို့နှင့်
ပေါင်းဖော်၍၊ သခင်ယေရှု၏ နာမတော်ကိုအမှီ
၂၉ ပြု၍ရဲရင့်စွာဟောလျက်နေ၏။- ဂရိဘာသာစကားပြောသော လူ
တို့နှင့် နှီးနှောပြော ဆို သဖြင့်၊ ထို သူတို့ သည်
၃၀ ရှောလုကိုသတ်မည်ဟုအားထုတ်ကြ၏။-ထိုအ
ကြောင်းကို ညီအစ်ကိုတို့သည် ကြား သိ လျှင်၊

ရှောလုကိုကဲသရိမြို့သို့ပို့၍တာရှုမြို့တိုင်အောင်
စေလွှတ်ကြ၏။
၃၁ ထိုအခါယုဒပြည်၊ဂါလိလဲပြည်၊ရှမာရိပြည်
အရပ်ရပ်တို့တွင် အသင်းတော်တို့သည် ငြိမ်
သက်ရ၍တည်ဆောက်ခြင်းရှိကြ၏။သခင်ဘုရား
ကိုကြောက်ရွံ့ခြင်းနှင့်၎င်း၊ သန့်ရှင်းသောဝိညာဉ်
တော်၏အဆုံးအမနှင့်၎င်း မွေ့လျော်သော အား
ဖြင့် ပွားများကြ၏။
၃၂ ပေတရုသည်အရပ်ရပ်တို့ကိုလှည့်လည်သည်
တွင် သန့်ရှင်းသူတို့ရှိရာ လုဒ္ဒမြို့သို့ ရောက်လေ
၃၃ ၏။- ထိုအရပ်၌ အဲနေအမည်ရှိသော၊ ထက်ခြေ
သေ၍ ရှစ်နှစ်ပတ်လုံးအိပ်ရာ၌ တုံးလုံးနေသော
သူတယောက်ကို တွေ့လျှင်၊ အဲနေ၊ ယေရှုခရစ်
၃၄ သည်သင့်အနာကျွမ်းသာပေး တော်မူ၏။- ထ၍
အိပ်ရာကို ပြင်လော့ဟု ပေတရုဆိုသော်၊ ထိုသူ
၃၅ သည်ချက်ချင်းထ၏။- လုဒ္ဒမြို့နှင့် ရှာရုန်မြို့၌ နေ
သောသူအပေါင်းတို့သည်ထိုသူကိုမြင်၍သခင်
ဘုရားထံတော်သို့ပြောင်းလဲကြ၏။
၃၆ ယုပ္ပေမြို့၌ ဒေါ်ကာ ဟု ဆိုလိုသော တဗိသာအ
မည်ရှိသော တပည့်တော်မတယောက်ရှိ၏။ ထို
မိန်းမသည် ကောင်းသောအကျင့်၊ ရက်ရောခြင်းအ
၃၇ ကျင့်နှင့်ပြည့်စုံလျက်၊- ထိုအခါ၌ နာ၍သေလေ
၏။ အလောင်းကို ရေချိုး၍ ပြီးလျှင် အထက်ခန်း
၃၈ ၌ တင်ထားကြ၏။- လုဒ္ဒမြို့သည် ယုပ္ပေမြို့နှင့်
နီးသည်ဖြစ်၍၊ ထိုမြို့၌ပေတရုရှိကြောင်းကိုတ
ပည့်တော်တို့သည်ကြားလျှင်၊ ပေတရုသည်အ
လျှင်အမြန် ကြွလာပါမည်အကြောင်း၊ လူနှစ်
၃၉ ယောက်ကို စေလွှတ်၍ တောင်းပန်ကြ၏။- ပေ
တရုသည်ထ၍ ထိုသူတို့နှင့်အတူ လိုက်လေ၏။
ရောက်လျှင် အထက်ခန်းသို့ခေါ်ပင့်၍၊ မုဆိုးမ
များတို့သည် ငိုကြွေးလျက်၊ သူတို့နှင့်အတူ ဒေါ်
ကာရှိစဉ်အခါ လုပ်ခဲ့သော အင်္ကျီနှင့် အဝတ်
၄၀ များကိုပြလျက်ရှိကြ၏။- ပေတရုသည်ထိုသူအ
ပေါင်းတို့ကို ပြင်သို့ထွက်စေသည်နောက်၊ ကိုယ်
တိုင်ဒူးထောက်၍ ဆုတောင်းပဌနာပြုပြီးလျှင်၊
ထိုအလောင်းသို့ မျက်နှာလှည့်၍၊ တဗိသာ၊ ထ
လော့ဟုဆိုလေ၏။ ထိုမိန်းမသည် မျက်စိကိုဖွင့်၍
၄၁ ပေတရုကိုမြင်လျှင်ထ၍ထိုင်၏။- ပေတရုသည်
မိမိလက်ကို သူ့အားပေး၍ ချီကြွပြီးမှ၊ သန့်ရှင်း
သူတို့နှင့်မုဆိုးမတို့ကိုခေါ်၍ အသက်ရှင်လျက်
၄၂ ရှိသော ထိုမိန်းမကို ပြလေ၏။- ထိုအကြောင်းကို
ယုပ္ပေမြို့၌အနှံ့အပြားသိကြ၍၊လူများတို့သည်
သခင်ဘုရားကိုယုံကြည်ခြင်းသို့ ရောက်ကြ၏။-
၄၃ ပေတရုသည် ယုပ္ပေမြို့၌ ရှိမုန်အမည်ရှိသော၊
သားရေလုပ်သမားနှင့်အတူကြာမြင့်စွာနေ၏။

၁၀

၁ ကဲသရိမြို့၌ဣတလိတပ်ဟုခေါ်ဝေါ်သောတပ်
တွင် လူတရာကို အုပ်ချုပ်သော တပ်မှူး ကော်
၂ နေလိအမည်တွင်သောသူတယောက်ရှိ၏။- ထို
သူသည် မိမိအိမ်တွင် ရှိသမျှသော သူတို့နှင့်တ
ကွ ဘုရားဝတ်၌ မွေ့လျော်၍၊ ဘုရားသခင်ကို
ကြောက်ရွံ့ခြင်းရှိသဖြင့်လူတို့အားများစွာသော
ရက်ရောခြင်းကိုပြု၍၊ ဘုရားသခင်ကို အစဉ်ဆု
၃ တောင်းလေ့ရှိ၏။- တနေ့သ၌နေ့သုံးချက်တီးအ
ချိန်တွင်ဘုရားသခင်၏ကောင်းကင်တမန်သည်၊
ကော်နေလိဟု ခေါ်လျက်ရောက်လာသည်ကို၊ ထို
သူသည် ထင်ရှားသော ဗျာဒိတ် ရူပါရုံအားဖြင့်
၄ မြင်ရ၏။- ကောင်းကင်တမန်ကို စေ့စေ့ကြည့်
လျှင် ထိတ်လန့်ခြင်း ရှိသည်ဖြစ်၍၊ အခင်၊ အ
ဘယ်အခင်းရှိပါသနည်းဟု မေးသော်၊ ကောင်း
ကင်တမန်က၊ သင်ပြုသောဆုတောင်းပဌနာနှင့်
ရက်ရောပေးကမ်းခြင်းတို့သည် ဘုရားသခင်ရှေ့
၅ တော်၌ အောင်းမေ့စရာ တို့တက်ကြပြီ။- ထို
ကြောင့်၊ယခုပင်ယုပ္ပေမြို့သို့လူတို့ကိုစေလွှတ်၍၊
ပေတရု အမည်သစ်ကို ရသောရှိမုန်ကို ခေါ်ပင့်
၆ သော့။- ထိုသူသည်သားရေလုပ်သမားရှိမုန်၏
အိမ်၌ တည်းနေ၏၊ ထိုအိမ်သည် ပင်လယ်နား
၇ မှာရှိသည်ဟု ပြောဆို၏။- ထိုသို့ပြောဆိုသော
ကောင်းကင် တမန်သွားပြီးမှ၊ ကော်နေလိသည်
မိမိ ငယ်သား နှစ်ယောက် နှင့် တကွ မိမိ ထံ၌ မ
ပြတ် ခစားသော လူစု အဝင်၊ ဘုရား ဝတ်၌ မွေ့
၈ လျော်သော စစ်သူရဲတယောက်ကိုခေါ်၍၊- ထို
အကြောင်းအရာအလုံးစုံတို့ကို ကြားပြောပြီးမှ
ယုပ္ပေမြို့သို့စေလွှတ်၏။
၉ နက်ဖန်နေ့၌ထိုသူတို့သည်သွား၍ယုပ္ပေမြို့အ
နီးသို့ရောက်ကြသောအခါ၊ နှစ်ချက်တီး အချိန်
တွင်ပေတရုသည်ဆုတောင်းခြင်းငှါအိမ်မိုးပေါ်
၁၀ သို့တက်လေ၏။- ဆာမွတ်၍အစာအာဟာရကို
အလိုရှိလျှင်၊ သူတပါးတို့သည်အစာအာဟာရ
ကိုပြင်ဆင်ကြစဉ်အခါပေတရုသည်အဝင်စား
၁၁ ၍နေသဖြင့်၊- ကောင်းကင်ဖွင့်လှစ်သည်ကိုငင်း၊
ချုံထည်ကဲ့သို့သောအထောင့်ချုပ်၍မြေသို့ချွှတ်
သော တန်ဆာ သည် မိမိထံသို့ ဆင်း သက် လာ
၁၂ သည်ကိုငင်မြင်လေ၏။-ထိုတန်ဆာထဲ၌သားရဲ

မှစ၍မြေ၌ကျင်လည်သောသားမျိုး၊ တွားတတ်
သောတိရိစ္ဆာန်မျိုး၊ မိုဃ်း၊ ကောင်းကင်၌ကျင်
၁၃ လည်သောငှက်မျိုးတို့သည်ရှိကြ၏။- စကားထ
သံသည်ထည်း၊ ပေတရု၊ ထ၍ သတ်စား၊ ထော့
၁၄ ဟု ထာ၏။- ပေတရုကလည်း၊ မဖြစ်နိုင်ပါ
သခင်၊ ညစ်ညူးသောအရာနှင့် မစင်ကြယ်သော
အရာကိုအကျွန်ုပ်သည်တခါတခါမျှမစားဘူးပါ
၁၅ ဟု ပြောဆို၏။- နောက်တဖန် စကားသံကား၊
ဘုရားသခင်စင်ကြယ်စေတော်မူသော အရာကို
၁၆ ညစ်ညူးသည်မထင်နှင့်ဟုလာပြန်၏။-ထိုသို့သုံး
ကြိမ်မြောက်အောင်လာပြီးလျှင်၊ ထိုတန်ဆာကို
ကောင်းကင်ထဲသို့သိမ်းရုပ်ပြန်လေ၏။
၁၇ ပေတရုသည် မိမိမြင်ရသော ဗျာဒိတ် ရူပါရုံ
ကား၊ အဘယ်သို့ဆိုလိုသနည်းဟု တွေးတော
ဆင်ခြင်၍ နေစဉ်တွင်၊ ကော်နေလိ စေလွှတ်
သောသူတို့သည်ရှိမုန်အိမ်ကိုမေးမြန်းရှာဖွေ၍
၁၈ တံခါးရှေ့မှာရပ်လျက်၊- ပေတရုအမည်သစ်ကို
ရသောရှိမုန်သည် ဤမှာတည်း၊ နေပါသလော
၁၉ ဟု မေးမြန်းဟစ်ခေါ်ကြ၏။- ပေတရုသည်ထို
ဗျာဒိတ်ရူပါရုံကိုဆင်ခြင်၍နေစဉ်တွင် ဝိညာဉ်
တော်က၊ လူသုံးယောက်တို့သည်သင့်ကိုရှာကြ
၂၀ ၏။- ထ၍ဆင်းလော့၊ တွေးတောခြင်းမရှိဘဲထို
သူတို့နှင့်အတူ လိုက်သွားလော့၊ အကြောင်းမူ
ကား၊ ထိုသူတို့သည် ငါစေလွှတ်သော သူဖြစ်
၂၁ ကြသည်ဟုမိန့်တော်မူလျှင်၊-ပေတရုသည်ဆင်း
၍၊ ငါကား၊ သင်တို့ရှာသောသူဖြစ်၏၊ အဘယ်
အကြောင်းရှိ၍ ထာကြသနည်းဟု၊ ထိုသူတို့
၂၂ အားမေး၏။- ထိုသူတို့ကလည်း၊ ဘုရားသခင်ကို
ကြောက်ရွံ့၍၊ ယုဒလူအပေါင်းတို့တွင် အသရေ
ရှိသောသူတော်ကောင်းတည်းဟူသော တပ်မှူး
ကော်နေလိသည်၊ ကိုယ်တော်ကိုမိမိအိမ်သို့ခေါ်
ပင့်၍ ကိုယ်တော်၏စကားကို နားထောင်ရမည်
အကြောင်း၊ သန့်ရှင်းသော ကောင်းကင်တမန်
အားဖြင့် ဗျာဒိတ်တော်ကို ခံရပါသည်ဟု ပြန်
၂၃ ပြောကြ၏။- ပေတရုသည်လည်း ထိုသူတို့ကို
အိမ်ထဲသို့ခေါ်၍ ဧည့်သည်ဝတ်ကို ပြုလေ၏။
နက်ဖန်နေ့၌ထ၍ထိုသူတို့နှင့်အတူသွားသဖြင့်၊
ယုပ္ပမြို့သားဖြစ်သောညီအစ်ကိုအချို့တို့သည်
လိုက်ကြ၏။
၂၄ ထိုနောက်တနေ့၌ကဲသရိမြို့သို့ဝင်ကြ၍၊ ကော်
နေလိသည် မိမိအဆွေအမျိုး မိတ်ဆွေပွန်းများသို့
ကိုစုဝေးစေပြီးလျှင်၊ ထိုသူတို့ကိုမျှော်ထင့်လျက်
၂၅ နေကြ၏။- ပေတရုရောက်လာသောအခါ ကော်
နေလိသည်ခရီးဦးကြိုပြု၍၊ ပေတရု၏ခြေရင်း၌
၂၆ ပြပ်ဝပ်လျက် ကိုးကွယ်လေ၏။- ပေတရုသည်
သူ့ကိုချီပင့်လျက်၊ ထလော့၊ ငါကိုယ်တိုင်လူဖြစ်
၂၇ သည်ဟုဆို၏။-ထိုသို့နှုတ်ဆက်၍ဝင်လေသော်
၂၈ စုဝေးလျက်ရှိကြသောလူများကိုတွေ့လျှင်၊- ပေ
တရုက၊ ယုဒလူဖြစ်သောသူတို့သည်တပါးအမျိုး
သားတို့နှင့် မပေါင်းဖော်မချည်းကပ်အပ်သည်
ကို သင်တို့ သိကြ၏၊ သို့သော် ထည်း၊ ညစ်ညူး
သည်မစင်ကြယ်ဟု၊ အဘယ်သူကိုမျှမခေါ်ရမည့်
အကြောင်း၊ ဘုရားသခင်သည် ငါ့အားရှုပြသ
၂၉ တော်မူပြီ။- ထိုကြောင့်၊ ငါ့ကိုခေါ်ကြသောအခါ
ငါသည်မငြင်းမနံဘဲလျက်လာ၏၊ သို့ဖြစ်၍၊ အ
ဘယ်အကြောင်းကြောင့် ငါ့ကိုခေါ်ကြသနည်း၊
ငါမေးလိုသည်ဟု၊ ထိုသူတို့အားပြောဆို၏။
၃၀ ကော်နေလိကလည်း၊ အကျွန်ုပ်သည်ထိုအ
ချိန်နာရီတိုင်အောင်အစာရှောင်၍ သုံးချက်တီး
အချိန်တွင်အိမ်၌ဆုတောင်းလျက်နေသည်၊ ထို
ရ လေးရက်ရှိပါပြီ၊ ထိုအချိန်၌ လူတယောက်
သည် တွန်းတောက်သော အဝတ်ကို ဝတ်လျက်
၃၁ အကျွန်ုပ်ရှေ့မှောက်၌ရပ်၍၊- ကော်နေလိ၊ သင်
ပြုသောပဌနာကို ဘုရားသခင် သည် ကြား၍၊
၃၂ သင်စွန့်ကြဲခြင်းကိုလည်း မှတ်တော်မူပြီ။- ထို
ကြောင့်၊ ယုပ္ပမြို့သို့စေလွှတ်၍ ပေတရုအမည်
သစ်ကိုရသောရှိမုန်ကိုခေါ်ပင့်လော့၊ ထိုသူသည်
ပင်လယ်နားမှာသားရေလုပ်သမားရှိမုန်၏အိမ်
၌တည်းနေ၏၊ ထိုသူသည် ရောက်လာလျှင်သင့်
၃၃ အားဟောပြောလိမ့်မည်ဟုပြောဆိုပါ၏။- ထို
ကြောင့်၊ အကျွန်ုပ်သည်ကိုယ်တော်ထံသို့အလျှင်
အမြန် စေလွှတ်၍၊ ကိုယ်တော်သည် ကြွလာ
သောအားဖြင့်ကောင်းစွန်စွာပြုပါပြီ၊ သို့ဖြစ်၍၊
ဘုရားသခင်သည်ကိုယ်တော်၌ မှာထားတော်မူ
သမျှကို နားထောင်ခြင်းငှါ၊ ယခု အကျွန်ုပ်တို့ရှိ
သမျှသည်ဘုရားသခင်ရှေ့တော်၌အသင့်နေကြ
ပါသည်ဟု၊ ကော်နေလိပြောဆို၏။
၃၄ ထိုအခါပေတရုသည်နှုတ်ကိုဖွင့်၍၊ အကယ်
စင်စစ်ဘုရားသခင်သည်လူမျက်နှာကိုမှတ်တော်
၃၅ မမူ။- လူအမျိုးမျိုးတို့တွင် ဘုရားသခင်ကို
ကြောက်ရွံ့၍ တရားသဖြင့်ကျင့်ဆောင်သောသူ
သည်အထံတော်၌ မျက်နှာရသည်ကို ငါသိမြင်
၃၆ ၏။- အလုံးစုံတို့ကို အစိုးရတော်မူသော သခင်
ယေရှုခရစ်အားဖြင့် ရန်ငြိမ်းခြင်း၊ တရားတည်း၊

ဟူသောဇေဝဂေလီတရားကို ဟောသတော်မူလျှက်၊
ရှုသရေလ အမျိုး သားတို့အား ပေးလိုက်တော်
၃၇ မူသောတရားတော်နှင့်အညီ၊- ယောဟန်သည်
နှစ်ခြင်းတရားကို ဟောသည်နောက်၊ ဂါလိလဲ
ပြည်မှစ၍ယုဒပြည်အရပ်ရပ်တို့၌ နှံ့ပြားသော
၃၈ အကြောင်းအရာကို သင်တို့သည်သိကြ၏။- ထို
အကြောင်းအရာ ဟူမူကား၊ ဘုရားသခင်သည်
သန့်ရှင်းသောဝိညာဉ်တော်နှင့်ဂုဏ်၊တန်ခိုးတော်
နှင့်ဂုဏ်၊ နာဇရက်မြို့သားယေရှုကိုဘိသိတ်ပေး
တော်မူသဖြင့်၊ထိုသူသည်ဘုရားသခင်၏အခွင့်
တော်နှင့် ကျေးဇူးပြုလျှက်၊ မာရ်နတ်ညှဉ်းဆဲ
သောသူအပေါင်းတို့အားချမ်းသာကိုပေးလျှက်
၃၉ လှည့်လည်တော်မူ၏။-ငါတို့သည်ထည်း၊ယေရု
ရှလင်မြို့မှစ၍ယုဒပြည်တွင်ပြုတော်မူသောအမှု
များတို့၏ သက် သေခံ ဖြစ် ကြ၏၊ ထိုသူကို သစ်
၄၀ ထိုင်၌ဆွဲ၍ကွပ်မျက်ကြလေ၏။-သုံးရက်မြောက်
သောနေ့၌ဘုရားသခင်သည်ထမြောက်စေတော်
၄၁ မူ၍၊-လူအပေါင်းတို့အားထင်ရှားစွာပြတော်မ
မူ၊ ဘုရားသခင် ခန့်ထားတော်မူနှင့်သော သက်
သေခံတည်းဟူသော ငါတို့အား ထင်ရှားစွာ ပြ
တော်မူ၏၊ သေခြင်းမှ ထမြောက် တော်မူသည်
နောက်၊ထိုသခင်နှင့်အတူငါတို့သည်စားသောက်
၄၂ ရကြ၏၊-ထိုသခင်သည်ထည်းအသက်ရှင်သော
သူတို့နှင့် သေသော သူတို့ကို တရားစီရင် သော
သခင်ဖြစ်စေခြင်းငှါ၊ဘုရားသခင်ခန့်ထားတော်
မူကြောင်းကို လူ အပေါင်း တို့ အား ဟော ပြော
ကြလော့၊ သက်သေ ခံကြလော့ဟု၊ ငါတို့အား
၄၃ ပညတ် ထား တော်မူ၏၊- ထိုသခင်ကို ယုံကြည်
သောသူရှိသမျှတို့သည် နာမတော်အားဖြင့် အ
ပြစ်လွှတ်တော် မူခြင်းကျေးဇူးကို ခံရကြမည်ဟု
တ၍၊ ပရောဖက် အပေါင်းတို့သည် ထိုသခင်၏
သက်သေခံဖြစ်ကြသည်ဟု၊ပေတရုမြွက်ဆို၏။
၄၄ ထိုစကားကိုမြွက်ဆိုစဉ်၊ နှုတ်ကပတ်တရား
တော်ကိုကြားနာရသော သူအပေါင်းတို့အပေါ်
သို့သန့်ရှင်းသောဝိညာဉ်တော်သည်သက်ရောက်
၄၅ တော်မူ၏၊- တပါးအမျိုး သားတို့ အပေါ်သို့
သန့်ရှင်း သောဝိညာဉ်တော်၏ကျေးဇူးကိုသွန်း
လောင်း သောကြောင့်၊ အရေဖျားလှီးခြင်းကို ခံ
သောသူတည်းဟူသောပေတရုနှင့်ပါသမျှသော
တပည့်တော်တို့သည်မိန်းမောတွေဝေခြင်းရှိကြ
၄၆ ၏၊-အကြောင်းမူကား၊ ထိုသူတို့သည်အမျိုးမျိုး
သော ထူးသော စကား အားဖြင့် ပြော၍ ဘုရား

၄၇ သခင်ကိုချီးမွမ်းသည်ကိုကြားကြသော်၊- ထိုအ
ခါပေတရုက၊ ငါတို့ကဲ့သို့သန့်ရှင်းသောဝိညာဉ်
တော်ကို ခံရသောဤသူတို့ကို နှစ်ခြင်း မပေးစေ
ခြင်းငှါ၊ အဘယ်သူသည်ရေကိုမြစ်တားနိုင်သ
၄၈ နည်းဟု ဆိုလျှက်၊-သခင်ဘုရား၏နာမ၌နှစ်ခြင်း
ကိုခံစေမည်အကြောင်းစီရင်သော်၊ထိုနောက်မှ
ပေတရုသည် ကာလ အတန် ကြာ နေပါမည် အ
ကြောင်းကိုထိုသူတို့သည်တောင်းပန်ကြ၏။

၁၁

၁ တပါးအမျိုးသားတို့သည်ဘုရားသခင်၏နှုတ်
ကပတ် တရား တော်ကို ခံယူ ကြ သည်ဟု၊ ယုဒ
ပြည်၌ရှိသော တမန်တော်တို့နှင့် ညီအစ်ကိုများ
၂ တို့သည် ကြားသိကြ၏။- ပေတရု သည် ယေရု
ရှလင်မြို့သို့ တက်လာသောအခါ အရေဖျားလှီး
၃ ခြင်းကို ခံသောသူတို့က၊- သင်သည်အရေဖျား
လှီးခြင်းကိုမခံသောလူတို့နှင့်ပေါင်းဖော်၍၊ စား
သောက်ပါသည် တကားဟု၊ ဆန့်ကျင်ဘက်ပြု
၄ ၍ဆိုကြ၏၊-ပေတရုသည်ထည်း၊ထိုအကြောင်း
အရာကို အစ မှ အဆုံးတိုင်အောင် ဖော်ပြသည်
၅ ကား၊-ငါသည်ယုပ္ပေမြို့၌ဆုတောင်း၊စိတ်ထဝင်
ဖြစ်၍၊ ကောင်းကင်မှ လေး ထောင့်ဖြင့် ချွတ်
သော ချုံထည်ကဲ့သို့သော တန်ဆာသည် ဆင်း
သက်၍၊ငါ့ထံသို့ရောက်လာသည်ကိုဗျာဒိတ်ရူပါ
၆ ရူအားဖြင့်မြင်၏။- ထိုတန်ဆာကိုစေ့စေ့ကြည့်ရှု
ဆင်ခြင်လျှင်၊သားရဲမှစ၍မြေ၌ကျင်လည်သော
သားမျိုး၊ တွားတတ်သောတိရစ္ဆာန်မျိုး၊ မိုဃ်း
ကောင်းကင်၌ကျင်လည်သောငှက်မျိုးထိုကိုမြင်
၇ ၏။- ထိုအခါ၊ ပေတရု၊ထ၍သတ်စားလော့ဟူ
ငါ့အားပြောသောစကားသံကိုထည်း၊ငါကြား၏။-
၈ ငါကလည်း၊ မဖြစ်နိုင်ပါ သခင်၊ ညစ်ညူးသော
အရာနှင့်မစင်ကြယ်သော အရာသည် အကျွန်ုပ်
ခံတွင်းထဲသို့ တရံတခါမျှမဝင်ဘူးပါဟုပြောဆို
၉ ၏။- နောက် တဖန် စကား အသံ ကား၊ ဘုရား
သခင် စင်ကြယ် စေ တော်မူသော အရာကို ညစ်
ညူးသည် မထင်နှင့်ဟု၊ ကောင်းကင်ထဲက ထာ
၁၀ ပြန်၏။- ထိုသို့ သုံးကြိမ်မြောက်အောင် ဖြစ်ပြီး
လျှင်၊ ထိုအလုံး ရှိသမျှတို့ကို ကောင်းကင် ထဲသို့
၁၁ ရုပ်ယူပြန်လေ၏။- ထိုခဏချင်းတွင် ကဲသရိမြို့မှ
ငါ့ထံသို့စေလွှတ်သောလူသုံးယောက်တို့သည်ငါ
၁၂ ရှိသော အိမ်အနားမှာ ရပ်နေကြ၏။- ငါ သည်
တွေးတောခြင်းမရှိဘဲ၊ထိုသူတို့နှင့်အတူသွားရ
မည်အကြောင်း၊ ဝိညာဉ်တော်သည် မိန့်တော်မူ

၏။ ဤညီအစ်ကိုခြောက်ယောက်တို့သည်လည်း
ငါနှင့်အတူသွား၍ ထိုသူ၏အိမ်သို့ ဝင်ကြ၏။-
၁၃ ကောင်းကင်တမန်သည်သူ၏အိမ်၌ထင်ရှား၍ရွာ
ရပ်လျက်၊ သင်သည် ယုပ္ပေမြို့သို့ လူတို့ကို စေ
လွှတ်၍ ပေတရုအမည်ထပ်ကို ရသော ရှိမုန်ကို
၁၄ ခေါ်ပင့်လော့။-ထိုပေတရုသည်သင်မှစ၍သင်၏
အိမ်၌ ရှိသမျှသော သူတို့ကို ကယ်တင် တော်မူ
ခြင်းတရားစကားကို သင့်အား ဟောပြောလိမ့်
မည်ဟု၊ မြွက်ဆိုမှုသောအကြောင်းအရာကိုထို
၁၅ သူသည် ငါတို့အားပြန်ကြားသော၏။- ငါသည်
ဟောပြောစပြုစဉ်၊ သန့်ရှင်းသောဝိညာဉ်တော်
သည် ရှေးဦး၌ ငါတို့ အ ပေါ်သို့ သက် ရောက်
တော်မူသည်နည်းတူ၊ ထိုသူတို့အပေါ်သို့လည်း
၁၆ သက်ရောက်တော်မူ၏။- ယောဟန်သည် ရေ၌
နှစ်ခြင်းကို ပေး၏၊ သင်တို့သည် သန့် ရှင်းသော
ဝိညာဉ်တော်၌ နှစ်ခြင်းကို ခံရကြလိမ့်မည်ဟု၊
သခင်ဘုရား မိန့်တော်မူသောစကားကို ထိုအခါ
၁၇ ငါအောက်မေ့၏။-သခင်ယေရှုခရစ်ကိုယုံကြည်
သော ငါတို့အား ဘုရားသခင်သည် ဆုကျေးဇူး
ကို ပေး တော် မူသည် နည်းတူ၊ ထို သူ တို့ အား
လည်း ပေးတော်မူသည် ဖြစ်သော့ကြောင့်၊ ငါ
သည်အဘယ်သို့သောသူဖြစ်၍ ဘုရားသခင်ကို
၁၈ ဆီးတား နိုင် သနည်းဟု ပေတရု ဆို၏။- ဤအ
ကြောင်းအရာတို့ကို ထိုသူတို့သည် ကြားရလျှင်
မငြင်းဘဲနေ၍၊အကယ်စင်စစ်ဘုရားသခင်သည်
အသက်ရှင်စေခြင်းအလို့ငှါ၊ နောင်တတရားကို
တပါး အမျိုးသားတို့အားလည်း ပေးတော်မူပြီ
ဟု၊ဘုရားသခင်၏ဂုဏ်တော်ကိုချီးမွမ်းကြ၏။
၁၉ ထိုမှတပါး သတေဖန်၏အမှုကြောင့် ညှဉ်းဆဲ
ခြင်းကိုခံရ၍အရပ်ရပ်သို့ကွဲပြားသောသူတို့
သည်ဖိနိတ်၊ ကုပရု၊ အန္တိအုတ် မြို့ရွာသို့ ထိုင်
အောင် သွား၍၊ ယုဒလူတို့အားသာ နှုတ်ကပတ်
၂၀ တရားတော်ကို ဟောပြောကြ၏။- နောက်မှ ထို
လူအချို့တို့သည်ကုပရုပြည်သား၊ ကုရေနေပြည်
သားဖြစ်၍အန္တိအုတ်မြို့သို့သွားပြီးလျှင်၊သခင်
ယေရှု၏ အကြောင်း တည်း ဟူသော ဧဝံ ဂေလိ
တရားကို ဟေလေနစ်လူတို့အား ဟောပြောကြ
၂၁ ၏။-သခင်ဘုရား၏လက်တော်သည်ထိုသူတို့နှင့်
အတူ ရှိတော်မူသဖြင့်၊ လူအပေါင်းတို့သည်ယုံ
ကြည်၍သခင်ဘုရားထံသို့ပြောင်းလဲကြ၏။
၂၂ ထို အကြောင်း အရာ ကို ယေရု ရှလင် မြို့၌ ရှိ
သော အသင်းတော်သည်ကြားလျှင်၊ အန္တိအုတ်
မြို့တိုင်အောင် သွားစေမည် အကြောင်း၊ ဗာနဗ
၂၃ ကိုစေလွှတ်လေ၏။-ထိုသူသည်ရောက်၍ဘုရား
သခင်၏ကျေးဇူးတော်ကိုမြင်လျှင်၊ဝမ်းမြောက်
ဝမ်းသာ ခြင်းရှိ၍၊ ထိုသူ အပေါင်း တို့သည် ယုံ
ကြည်သော စိတ်နှင့် သခင်ဘုရားကို မှီဝဲစေမည်း
ကပ်မည် အ ကြောင်း၊ တိုက်တွန်း၊ နှိုး ဆော် လေ
၂၄ ၏။-ထိုသူသည်သူတော်ကောင်းဖြစ်၍၊သန့်ရှင်း
သောဝိညာဉ်တော်နှင့်၎င်း၊ ယုံကြည်ခြင်းနှင့်၎င်း
ပြည့်စုံသောအားဖြင့်၊လူများအပေါင်းတို့သည်
သခင်ဘုရားထံသို့ဝင်စားကြ၏။
၂၅ ဗာနဗသည်လည်းရှောလုကိုရှာလျက်တာရှု
မြို့သို့ သွား၏၊ တွေ့လျှင် အန္တိအုတ်မြို့သို့ ခေါ်ခဲ့
၂၆ ၏။- ထိုသူတို့သည် တနှစ်ပတ်လုံး ထို အသင်း
တော်နှင့်အတူစည်းဝေး၍၊ လူများအပေါင်းတို့
အား ဆုံးမ ဩဝါဒ ပေးကြ၏၊ တပည့် တော် တို့
သည်လည်းခရစ်ယာန်ဟူသောခေါ်ဝေါ်သမုတ်
ခြင်းကိုအန္တိအုတ်မြို့၌အဦးခံရကြ၏။
၂၇ ထိုအခါ၌ပရောဖက်တို့သည်ယေရုရှလင်မြို့မှ
၂၈ အန္တိအုတ်မြို့သို့သာကြ၏။-ထိုသူတို့အဝင်၊အာ
ဂဗု အမည် ရှိသော သူတယောက် သည် ထ၍၊
မြေတပြင်လုံး၌ အစာ အာဟာရ အတွန်ခေါင်း
ပါးခြင်း ဖြစ်ထတ့် ဟု၊ ဝိညာဉ် တော် အား ဖြင့်
ဖော်ပြ၏၊ ထိုခေါင်းပါးခြင်းသည် ကဲသာဘုရင်
၂၉ ကလောဒိလက်ထက်၌ ဖြစ်သတည်း။- ထိုအခါ
တပည့်တော်တို့သည် အသီးအသီး တတ်နိုင်ကြ
သည် အတိုင်း၊ ယုဒပြည်၌ နေသော ညီအစ်ကို
၃၀ တို့အား အကူအမ ပေးလိုက်မည်ဟု၊- ဗိုရင်ကြ
သည် နှင့် အညီ၊ ဗာနဗ နှင့် ရှောလုတို့ တွင်ထည်း
အုပ်တို့ထံသို့ပေးလိုက်ကြ၏။

၁၂

၁ ထိုအခါဟေရုဒ်မင်းကြီးသည်အသင်းဝင်လူအ
၂ ချို့တို့ကိုညှဉ်းဆဲခြင်းငှါစီရင်၍၊-ယောဟန်၏
အစ်ကိုဖြစ်သောယာကုပ်ကိုထားနှင့် ကွပ်မျက်
၃ လေ၏။-ယုဒလူတို့သည်အားရဝမ်းမြောက်ခြင်း
ရှိသည်ကိုမြင်လျှင်၊ အရုမပွဲနေ့ရက်တို့၌တဖန်
၄ ထပ်၍၊- ပေတရုကိုလည်း ဖမ်းဆီးပြီးမှ၊ ပသ
ခါပွဲလွန်လျှင် လူများတို့အား ထုတ်ပေးမည်အ
ကြံ နှင့်၊ အ ခေါင့် အ ရှောက် စစ် သူ ရဲ တ ကျိပ်
ခြောက်ယောက်တို့၌အပ်၍ထောင်ထဲမှာအှောင်
၅ ထားလေ၏။-ပေတရုသည်ထောင်ထဲ၌အကျဉ်း
နေရစဉ်၊သင်းဝင်သူတို့သည်သူ့အဖို့ကြိုးစား၍
ဘုရားသခင်ကိုဆုတောင်းပဌနာပြုကြ၏။

၆ ပေတရုသည် ဟေရုဒ်မင်း၊ထုတ်ခါနီး၊ ညဉ့်
ဆ ရှိန်တွင်သံကြိုးနှစ်ချောင်းနှင့်ချည်နှောင်ခြင်းကို
ခံရလျက်၊ စစ်သူရဲ နှစ်ယောက် တို့ အ ထယ် ၌
အိပ်ပျော်၍၊အစောင့်များတို့သည်ထောင်တံခါး
၇ ရှေ့မှာစောင့်နေကြ၏၊-ထိုအခါထာဝရဘုရား၏
ကောင်းကင် တမန်သည် ပေါ်လာလျှင် ထောင်
အိမ်၌ အလင်း ထွန်း တောက် လေ၏၊ ကောင်း
ကင်တမန်သည် ပေတရု၏နံဖေးကို ပုတ်ခတ်၍၊
အလျှင်အမြန်ထလော့ဟု ဆိုလျက်ထစေ၏၊ သံ
ကြိုးသည်လည်း ပေတရု၏လက်မှ ကျွတ်လေ၏။-
၈ ကောင်းကင်တမန်ကလည်း၊၊ ခါးပန်းကို
စည်းလော့၊ ခြေနင်းကိုလည်းစည်းလော့ဟု ဆို
လျှင်၊ ဆိုသည်အတိုင်းပေတရုပြု၏၊ ဝတ်လုံကို
၉ ခြုံ၍ငါ့နောက်သို့လိုက်လော့ဟုဆိုပြန်၏။- ပေ
တရုသည် ထွက်၍ လိုက် သော်လည်း၊၊ ကောင်း
ကင်တမန်ပြုသမျှတို့သည် မှန် သော အမှု အရာ
ဖြစ်သည်ဟု မသိမမှတ်ဘဲ၊ မိမိသည် ဗျာဒိတ် ရူ
၁၀ ပါရုံကို မြင်သည်ဟု ထင်လေ၏။- လုစောင့်နှစ်
ဌာနကို လွန်သွား၍ မြို့ထဲသို့ ဝင် သောသံတံခါး
သို့ ရောက်လျှင်၊ ထိုတံခါးသည် အလိုလို ပွင့်သ
ဖြင့် သူ တို့ သည် ထွက် ၍ လမ်း တ ကြောင်း၌
ရှောက်သွားပြီးမှ၊ကောင်းကင်တမန်သည်ချက်
ချင်းပေတရုမှ ခွာ၍သွားလေ၏

၁၁ ပေတရု သည် သတိရ လျှင်၊ ထာဝ ရ ပင် သခင်
ဘုရားသည်မိမိကောင်းကင်တမန်ကို စေလွှတ်၍
ဟေရုဒ် မင်း၊လက်မှ၎င်း၊ ယုဒ လူတို့၏ မျှော် လင့်
ခြင်းမှ၎င်း၊ ငါ့ကိုကယ်နှုတ်တော်မူသည်ကိုငါအ
၁၂ မှန်သိ၏ဟု အောင်းမေ့ စည်၊- လူများ စုဝေး၍
ဆု တောင်း ရာ၊ မာကု အ မည် သစ် ကို ရ သော
ယောဟန်၏အမိဖြစ်သောမာရိ၏အိမ်သို့ရောက်
၁၃ ၍၊- အိမ်ဦးတံခါးကိုခေါက်လေသော်၊ ရောဒေ
အမည်ရှိသော မိန်းငယ် တ ယောက် သည် နား
၁၄ ထောင်ခြင်းငှါ ထွက်၍၊- ပေတရု၏စကားသံ ကို
သိလျှင်၊ဝမ်းမြောက်သောအားဖြင့်တံခါးကိုမ
ဖွင့်ဘဲအထဲသို့ ပြေး၍ဝင်၍၊ ပေတရုသည် တံခါး
၁၅ ရှေ့မှာရပ်နေသည်ဟုကြားပြော၏။-ထိုသူတို့က၊
သင်သည်အရူးဖြစ်၏ဟု၊ထိုမိန်းမငယ်အားဆိုကြ
သော်လည်း၊ပေတရုအမှန်ရှိသည်ဟု၊ သူသည်
မိုင်မာစွာဆိုလျှင်၊ ပေတရု၏ကောင်းကင်တမန်
၁၆ ဖြစ်လိမ့်မည်ဟုဆိုကြ၏၊- ပေတရုသည်ခေါက်
၍နေသော်၊ တံခါးကိုဖွင့်ကြ၍ သူကိုမြင်သဖြင့်
၁၇ အ ရွှန် တရာ ဆုံ့ ပြော ကြ ၏။- ပေ တရု သည်
ထည်။ ထိုသူတို့ကို တိတ်ဆိတ်စွာ နေစေခြင်းငှါ
မိမိလက်နှင့် အမှတ်ပေး၍၊ မိမိကိုထောင်ထဲက
ထ ခင်ဘုရား နှုတ်တော်မူသော အကြောင်းအရာ
ကိုဖော်ပြပြီးမှ၊ သင်တို့သွား၍ ယာကုပ်နှင့်ညီ
အစ်ကို တို့ အား ဤအကြောင်း များကို ပြန်ကြား
ကြလော့ဟုဆိုပြီးလျှင်၊ထွက်၍အခြားတပါးသို့
၁၈ သွားလေ၏။- မိုဃ်းလင်း၊သောအခါစစ်သူရဲတို့
သည် ပေတရု၌ အဘယ်သို့ဖြစ်ပါသနည်းဟု၊ ရုန်း
၁၉ ရင်းခတ်မှုဖြစ်ကြ၏။-ဟေရုဒ်မင်းသည်ပေတရု
ကိုရှာ၍မတွေ့သည်ရှိသော်၊စောင့်ရှောက်သော
သူတို့ကို စစ်ကြော ပြီး၊မှ ထုတ်မည် အကြောင်း
ကိုမိန့်ရင်လေ၏၊

၂၀ ထိုနောက်၊ဟေရုဒ်မင်းသည်ယုဒပြည်မှကဲသ
ရိမြို့သို့သွား၍နေသည်ရှိသော်၊ တုရုမြို့သားနှင့်
ဇိဒုန်မြို့သားတို့ကိုအမျက်ထွက်လေ၏၊ထိုသူတို့
သည် တညီတညွတ်တည်းလာကြ၍၊ မင်းကြီး
အမည်ရှိသောအတွင်းဝန်ကိုချော့မော့ပြီးမှ၊အ
မျက်တော်ပြေမည်အကြောင်းတောင်းပန်ကြ၏၊
အကြောင်းမူကား၊၊ သူတို့ပြည်သည်ပြည်တော်
၂၁ ကိုမှီ၍ ကျွေးမွေးခြင်းကို ခံရ၏။- ဟေရုဒ် မင်း
သည်လည်း ချိန်းချက် သောနေ့၌ မင်း ခြောက်
တန်ဆာကိုဝတ်ဆင်၍၊ ပလ္လင်တော်ပေါ်မှာထိုင်
၂၂ လျက် ထိုသူတို့အားမိန့်တော်မူ၏။-လူများတို့က
ဤအသံသည်လူ၏အသံမဟုတ်၊ ဘုရားသခင်၏
၂၃ အသံဖြစ်၏ဟုကျွေးကြော်ကြသည်ရှိသော်၊ ထို
မင်းကြီးသည်ဘုရားသခင်၏ဂုဏ်အသရေတော်
ကို မပေးသော ကြောင့်၊ ထို ခဏချင်း
တွင် ထာဝရ ဘုရား၏ ကောင်းကင် တမန် သည်
ဒဏ်ခတ်၍၊ ကိုယ်တွင်း၌ ပိုးများကိုက်သဖြင့်
၂၄ အနိစ္စ ရောက်လေ၏။- ဘုရားသခင်၏ တရားစကား
၂၅ တော်သည်တိုးပွားများပြားလေ၏။- ဗာနဗနှင့်
ရှောလုတို့သည် လုပ်ကျွေးခြင်း အမှုကို ဆောင်
ရွက် ပြီးလျှင်၊ မာကု အ မည် သစ် ကို ရ သော
ယောဟန်ကိုလည်း ခေါ်ခဲ့၍ ယေရု ရှလင် မြို့မှ
ပြန်ကြ၏၊

၁၃

၁ အန္တိ အုတ် မြို့တွင် ရှိ သော အ သင်း တော်၌
ဗာနဗမှစ၍ နိဂါဟု ခေါ်ဝေါ်သော ရှုမောင်၊ ကု
ရေနေ ပြည်သားလုကိ၊ စော်ကြွား ဟေရုဒ်၏ ထု
ငယ် ချင်း အရင်း ဖြစ်သော မာ နင် နှင့် ရှောလု
တည်း၊ဟူသောပရောဖက်ပြုသူ၊ဆရာပြုသူရှိကြ
၂ ၏။- ထိုသူတို့သည် သခင်ဘုရားဝတ်ကိုပြု၍အ



 

စာကိုရှောင်ကြစဉ်၊ သန့်ရှင်းသောဝိညာဉ်တော်
က၊ ငါခန့်ထားသောအမှုကိုဆောင်ရွက်စေခြင်း
ငှါ ဗာနဗနှင့် ရှောလုတို့ကို ရွေးချယ်၍ထားကြ
၃ လော့ဟုမိန့်တော်မူသည်အတိုင်း၊- အစာရှောင်
၍ပဌနာပြုလျက်၊ ထိုသူတို့ ခေါင်းပေါ်မှာ လက်
ကိုတင်၍ လွှတ်လိုက်ကြ၏။
၄ ထိုသို့ သန့်ရှင်းသော ဝိညာဉ်တော် စေလွှတ်
တော်မူသောအားဖြင့်၊ ထိုသူတို့သည် သေလုကိ
မြို့သို့သွား၍ ထိုမြို့မှသင်္ဘောနှင့်ထွက်သဖြင့်၊ ကု
၅ ပရုကျွန်းသို့ရောက်ကြ၏။-ရှာလမိမြို့၌ရှိနေစဉ်၊
ယုဒ တရားဇရပ် များတွင် ဘုရားသခင်၏ နှုတ်
ကပတ် တရားတော်ကို ဟောပြောကြ၏။ ယော
ဟန်သည်လည်း ထိုသူတို့၏ ထက် ထောက် ဖြစ်
၆ သတည်း။- တကျွန်းလုံးကိုရှောက်၍ပါဖုမြို့သို့
၇ ရောက်လျှင်၊- မာဂုပ ရှုအမည်ရှိသော ယုဒအ
မျိုးသား၊မိစ္ဆာပရောဖက်ဖြစ်သော နတ်ဝိဇ္ဇာအ
တတ်သမားကိုမြို့ဝန်မင်းသေရဂိပေါလုထံ၌တွေ့
ကြ၏။ ထိုမြို့ဝန်သည်ပညာသတိရှိသဖြင့်၊ဗာန
ဗနှင့်ရှောလုတို့ကိုခေါ်ပင့်၍ဘုရားသခင်၏နှုတ်
ကပတ်တရားတော်ကိုနာလိုသောစိတ်ရှိသော်၊-
၈ အနက်အားဖြင့် နတ်ဝိဇ္ဇာအတတ်သမားဟုဆို
လိုသော ဧလုမအမည်ရှိသော ထိုသူသည်မြို့ဝန်
ကိုယုံကြည်ခြင်းမှလွှဲဖဲ့သောငှါ တမန်တော်တို့
ကိုတန့်တားလေ၏။- ထိုအခါပေါလုဟုအမည်
တွင်သော ရှောလုသည် သန့်ရှင်းသော ဝိညာဉ်
တော်နှင့် ပြည့်သဖြင့်၊ ထိုနတ်ဝိဇ္ဇာ အတတ် သ
မားကိုစေ့စေ့ကြည့်ရှုလျက်၊-လှည့်ဖြားခြင်း၊အ
ကျိုးကို ဖျက်ခြင်း အမျိုးမျိုး နှင့် ပြည့်စုံသော
မာရ်နတ်၏ သား၊ ဖြောင့် မတ်ခြင်းတရား၏ ရန်
သူ၊ သင်သည်ထာဝရဘုရား၏ဖြောင့်မတ်သော
လမ်းခရီးတို့ကိုမဖျက်ဆီးဘဲမနေနိုင်သလော။-
၁၁ ယခုပင် ထာဝရဘုရား၏လက်တော်သည် သင့်
အပေါ်သို့ ရောက်၍၊ နေကိုမျှ မမြင် နိုင် ဘဲ ခေါင်
အခ်တန်ကာလပတ်လုံးသင်၏မျက်စိကွယ်လိမ့်
မည်ဟု၊ ပေါလုဆိုသောခဏချင်းတွင်မျက်စိမှုန်
ရှက်၍မှောင်မိုက်အတိဖြစ်သဖြင့်၊ လက်ဆွဲပေး
သောသူတို့ကိုရှာလျက် တထဉ်သည်ရှိ၍နေ၏။-
၁၂ ထိုအကြောင်းအရာကိုမြင်လျှင်၊ မြို့ဝန်သည်ယုံ
ကြည်ခြင်းသို့ရောက်၍၊သခင်ဘုရား၏ဒေသနာ
တော်ကို အလွန်ဖဲ့ဩြာမိန်းမော၍နေ၏။
၁၃ ပေါလုနှင့်ပါသောသူတို့သည်ပါဖုမြို့မှထွက်၍
ပံဖုလိပြည်၊ပေရဂေမြို့သို့ရောက်ကြလျှင်၊ယော
ဟန်သည် သူတို့ထံမှထွက်၍ ယေရုရှလင်မြို့သို့
၁၄ ပြန်လေ၏။-ပေရဂေမြို့မှထွက်သွားပြန်၍ပိသိဒိ
ပြည်၊ အန္တိအုတ်မြို့သို့ရောက်လျှင်၊ ဥပုသ်နေ့၌
၁၅ တရားဇရပ်သို့ဝင်၍ထိုင်ကြ၏။-ပညတ္တိကျမ်း၊
အနာဂတ္တိကျမ်းကိုဖတ်ရွတ်ပြီးမှ၊ တရားဇရပ်
မှူးတို့သည်၊ညီအစ်ကိုတို့၊ လူများအားဆုံးမစရာ
စကားရှိလျှင် ဟော ပြော ကြ ပါဟု၊ လူကို စေ
လွှတ်၍ကြားပြောစေ၏။
၁၆ ထိုအခါပေါလုသည်ထ၍မိမိလက်နှင့်အမှတ်
ပေးလျက်၊ ဣသရေလလူမှစ၍ ဘုရားသခင်ကို
ကြောက်ရွံ့သော သူတို့၊ နားထောင်ကြလော့။-
၁၇ ဣသရေလအမျိုး၏ဘုရားသခင်သည် ငါတို့ဘိုး
ဘေးများကိုရွေးကောက်တော်မူ၍၊အဲဂုတ္တုပြည်
၌ဧည့်သည်ဖြစ်သောထိုလူမျိုးကိုချီးမြှောက်သ
ဖြင့်၊ထင်ရှားသောလက်တော်နှင့်ထိုပြည်မှနှုတ်
၁၈ ဆောင်တော်မူ၏။- အနှစ်လေးဆယ်မျှထောက်
သော ကာလ ပတ်လုံး တော၌ ကျွေးမွေးတော်မူ
၁၉ ၏။-ခါနာန်ပြည်၌လူခုနစ်မျိုးတို့ကိုပယ်ရှားပြီး
လျှင်၊ ထိုပြည်ကို ဣသရေလအမျိုးအား အမွေ
၂၀ ပေးကမ်းဝေငှတော်မူ၏။-ထိုနောက်မှပရောဖက်
ရှမွေလမပေါ်မရှိမှီ အနှစ် လေးရာ ငါးဆယ် မျှ
ထောက်သော ကာလပတ်လုံး၊ တရားသူကြီးတို့
၂၁ ကိုပေးတော်မူ၏။- နောက် တစ်ဖန် ရှင်ဘုရင်ကို
တောင်းကြသောအခါ ရှောလု အမည်ရှိသော၊
ကိရှ၏သား၊ ဗင်္ယာမိန် အမျိုးဖြစ်သောသူကို အ
၂၂ နှစ်လေးဆယ်ပတ်လုံးပေးတော်မူ၏။- နောက်မှ
ထိုသူကို ပယ်၍၊ ဣသရေလ ရှင်ဘုရင် အရာ၌
ဒါဝိဒ်ကို ချီးမြှောက်တော်မူ၏။ ထိုသူအားသက်
သေခံတော်မူလျက်၊စိတ်နှလုံး၌ညီညွတ်သည်
ဖြစ်၍ငါအလိုကိုပြည့်စုံစေမည်သူ၊ယေရှဲ၏သား
၂၃ ဒါဝိဒ်ကိုငါတွေ့ရပြီဟုမိန့်တော်မူ၏။-ထိုသူ၏အ
မျိုးအနွယ်ထဲ၌ဘုရားသခင်သည် ဂတိတော်အ
တိုင်းကယ်တင်သောသခင်ယေရှုကိုဣသရေလ
၂၄ လူတို့အားပေါ်ထွန်းစေတော်မူပြီ။-ထိုသခင်ကြွ
လာတော်မမူမှီ၊ ယောဟန်သည် ဣသရေလလူ
အပေါင်းတို့အား နောင်တနှင့် စပ်ဆိုင်သောနှစ်
၂၅ ခြင်းတရားကိုဟောပြောနှင့်လေ၏။- ယောဟန်
သည်မိမိဆောင်ရွက်ရသောအမှုကိုပြု၍နေစဉ်
တွင်၊ ငါသည် အဘယ် သူဖြစ် သည်ကို သင်တို့
ထင်မှတ်ကြသနည်း။ ငါသည် ထိုသူဖြစ်သည်မ
ဟုတ်။ငနောက်ကြွလာသောသူတပါးရှိသေး၏။
ထိုသူ၏ခြေနင်းတော်ကို ငါမချွတ်ထိုက်ဟု ဆို၏။

၂၆ အာဗြဟံအမျိုး၊ဖြစ်သောညီအစ်ကိုမှစ၍ သင်
တို့တွင်ဘုရားသခင်ကို ကြောက်ရွံ့သော သူတို့၊
ဤကယ်တင်တော်မူခြင်း၊တရားစကား၊ကိုသင်တို့
၂၇ အား၊ကြား၊လိုက်တော်မူ၏။-ယေရုရှလင်မြို့၌နေ
သော သူတို့နှင့်တကွ မင်းများတို့သည် ထိုသခင်
ကိုငင်၊ ဥပုသ်နေ့တိုင်း အစည်းဝေး ရွတ် သော
ပရောဖက် တို့၏ စကား၊ကို ငင် မသိ နား၊မလည်
သောကြောင့်၊ ထိုသခင်ကို စီရင်သော အား၊ဖြင့်
ထိုပရောဖက်တို့၏ စကား၊ကို ပြည့်စုံ စေကြပြီ။-
၂၈ ကိုယ်တော်၌ သေထိုက် သော အပြစ် တစုံ တခု
ကိုမျှ မ တွေ့ သော်လည်း၊ ကွပ်မျက် စေမည် အ
ကြောင်း၊ ပိလတ်မင်း၊ထံ၌ တောင်း လျှောက် ကြ
၂၉ ၏။- ထိုသခင်ကိုရည်မှတ်၍ကျမ်း၊စာ၌ရေး၊ထား၊
သမျှတို့ကို ပြည့်စုံစေပြီး၊လျှင်၊ အလောင်း၊တော်
ကိုသစ်တိုင်မှချ၍သင်း၊ချိုင်း၊တွင်း၌ထား၊ကြ၏။-
၃၀ ဘုရား၊သခင်သည်ထည်း၊ သေခြင်း၊မှ ထမြောက်
၃၁ စေတော်မူသည်ဖြစ်၍၊-ဂါလိလဲပြည်မှယေရုရှ
လင်မြို့သို့ နောက်တော်၌ လိုက်သောသူတို့အား၊
နေ့ရက် များ၊ စွာကိုယ်ကို ထင်ရှား၊ပြတော်မူ၏။-
၃၂ ထို သူတို့သည် လူများ၊တို့အား သက်သေခံ ဖြစ်
၃၃ ကြ၏။- ဆာလံကျမ်း၊ ဒုတိယ ခဏ်း၌ လာသည်
၃၄ ကား၊၊သင်သည်ငါ့သား၊ဖြစ်၏၊-ယနေ့ပင်သင့်ကို
ငါဖြစ်ပွား၊ စေပြီဟု လာသည်နှင့် အညီ၊ ဘုရား
သခင်သည် ယေရှုကို ထမြောက် စေတော်မူသ
ဖြင့်၊ ငါတို့ဘိုး၊ဘေး၊များ၊၌ ရှိသော ဂတိတော်ကို
ထိုသူတို့၏သား၊ဖြစ် သော ငါတို့အား၊ ပြည့်စုံစေ
တော်မူသည်ဟူ၍ငင်၊ ဒါဝိဒ်၌ မြဲမြံသော ကျေး၊
ဇူး၊ တော်ကို သင်တို့အား၊ ငါ ပေး၊ မည်ဟူသော
ဗျာဒိတ်တော်နှင့်အညီ၊ထိုသခင်ကိုသေခြင်း၊မှထ
မြောက်စေ၍၊ နောက်တဖန်ပုပ်စပ်ခြင်း၊သို့မပြန်
သဲ အစည်ကင်း၊လွတ်ရမည်အခွင့်ကို ပေး၊တော်
မူသည်ဟူ၍ငင်၊ ဝမ်း၊မြောက်စရာ သိတင်း၊ ဧဝံ
ဂေလိ တရား၊ကို ငါတို့သည် သင်တို့အား၊ ကြား၊
၃၅ ပြောကြ၏။- ထိုကြောင့်၊ဆာလံကျမ်း၊တခဏ်း၌
လာသည်ကား၊၊ ကိုယ်တော်၏သန့်ရှင်း၊သောသူ
၃၆ အား၊ပုပ်စပ်ခြင်း၊ကိုရှုံစေတော်မမူဟုလာ၏။- ဒါ
ဝိဒ်သည် မိမိကာလ၌ဘုရား၊သခင်၏ အလိုတော်
ကို ဆောင်ရွက် ပြီး၊လျှင်၊ ကျိန်း၊စက်၍ မိမိဘိုး၊
ဘေး၊စုထဲသို့ ဝင်သဖြင့် ပုပ်စပ် ခြင်း၊သို့ ရောက်
၃၇ လေ၏။-ဘုရား၊သခင်ထမြောက်စေတော်မူသော
သူမူကား၊၊ပုပ်စပ်ခြင်း၊သို့မရောက်။
၃၈ ထိုကြောင့်ညီအစ်ကိုတို့၊ ထိုသခင်၏ကျေး၊ဇူး၊

တော်ကြောင့် အပြစ်လွှတ်ခြင်း၊တရား၊ကို သင်တို့
၃၉ အား၊ဟောကြား၊သည်ကိုငင်၊- ထိုသခင်ကို ယုံ
ကြည်သော သူရှိသမျှတို့သည် မောရှေ၏တရား၊
အထိုင်း၊ မလွတ်နိုင် သော အပြစ် ရှိသမျှ တို့နှင့်
၄၀ လွတ်ရကြသည်ကိုငင်သိမှတ်ကြလော့။- အရာ
ဂထ္ထိကျမ်း၊၌လာသည်ကား၊၊ မထီမဲ့မြင်ပြု တတ်
သောသူတို့၊ ကြည့်ရှု ဖုံ့ဖြော၍ ပြိုထိ ပျောက်
၄၁ ခြင်း၊သို့ ရောက်ကြလော့။- အကြောင်း၊ မူကား၊၊
သင်တို့အား၊ သူတပါး၊ ပြည့်နှင်သော်လည်း၊၊ သင်
တို့မယုံသောအမှုကိုသင်တို့ထက်ထက်ကာလ၌
ငါပြုသည်ဟု၊ ကျမ်း၊စာ၌ပါသောအရာကိုသင်
တို့အပေါ်သို့ မရောက်စေမည် အကြောင်း၊ သတိ
ပြုကြလော့ဟုပေါလုဟောပြောလေ၏။
၄၂ ယုဒများ၊တို့သည်တရား၊ဇရပ်မှ ထွက်သွား၊ကြ
စဉ်၊ ထို အ ကြောင်း၊ အ ရာ တို့ ကို မိမိ တို့ အား၊
နောက်ဥပုသ်နေ့၌ဟောပြောပါမည်အကြောင်း၊
၄၃ တောင်း၊ပန်ကြ၏။- အစည်း၊အဝေး၊ထွက်၍ ပြန်
ကြသောအခါ၊ ယုဒလူမှစ၍ဘုရား၊ကိုကိုး၊ကွယ်
သောအာသာဝင်သူများ၊တို့သည်ပေါလုနှင့် ဗာ
နဗနောက်သို့လိုက်ကြသည်ဖြစ်၍၊ထိုသူတို့အစ
ဘုရား၊သခင်၏ ကျေး၊ဇူး၊တော်၌တည်ကြည်မည်
အကြောင်း၊၊ တမန်တော်တို့သည် ဖြား၊ယောင်း၊
၄၄ ၍ ဆုံးမြဲ ဝါဒပေး၊လေ၏။- နောက် ဥပုသ်နေ့၌
ဘုရား၊သခင် ၏ နှုတ်ကပတ် တရား၊တော်ကို နား၊
ထောင်စံ့သောငှါတမြို့လုံး၊ကုန်မတတ်စည်း၊ဝေး၊
၄၅ ကြ၏။- ယုဒလူတို့သည်အစည်း၊အဝေး၊ထို့ကိုမြင်
လျှင် ငြူစူသောစိတ်နှင့်ပြည့်ရှိသဖြင့်၊ ပေါလု၏
၄၆ စကား၊ကိုငြင်း၊ခုံသည်သာမကဆဲရေး၊ကြ၏။- ထို
အခါပေါလုနှင့်ဗာနဗတို့က၊ဘုရား၊သခင်၏နှုတ်
ကပတ် တရား၊ တော်ကို သင်တို့ အား၊ ရှေ့ဦး၊စွာ
ဟောပြော ရ၏၊ သို့သော်လည်း၊၊ သင်တို့ သည်
ပယ်၍ ထာဝရအသက်ကိုမိမိတို့မခံထိုက်သည်
ဟု မိမိတို့စီရင်ကြသောကြောင့်၊ ထာဝရဘုရား၊
သည်မှာတော်မူသည်အတိုင်း၊ငါတို့သည်ရှုတ်နှာ
ကိုလွှဲ၍တပါး၊အမျိုး၊သား၊တို့ဆီသို့ဖျည့်ကြ၏။-
၄၇ မှာတော်မူသောဗျာဒိတ်တော်အရှုတ်ကား၊၊သင်
သည်မြေကြီး၊စွန်း၊တိုင်အောင်ကယ်တင်ခြင်း၊ကို
ပြုမိမ့်သောငှါ၊သင့်ကိုတပါး၊အမျိုး၊သား၊တို့ထင်း၊
စရာဘိုငါခန့်ထား၏ဟုဗျာဒိတ်တော်ရှိသည်ဟု၊
၄၈ ရဲရင့်စွာ ပြောဆိုကြ၏။- ထိုစကား၊ကို တပါး၊အ
မျိုး၊သား၊တို့သည်ကြား၊လျှင်ဝမ်း၊မြောက်၍ထာ
ဝရဘုရား၏ နှုတ်ကပတ် တရား၊တော်ကိုချီး၊မွမ်း၊

ကြ၏။ ထာဝရအသက်ကိုရစေခြင်းငှါ ခန့်ထား
တော်မူသောသူ ရှိသမျှတို့သည် ယုံကြည် ခြင်း
၄၉ သို့ရောက်ကြသဖြင့်၊- ထာဝရ ဘုရား၏ တရားသ
၅၀ နာတော်သည် တပြည်လုံး၌ နှံ့ပြားလေ၏။- ထို
အခါ ဘုရားကို ကိုးကွယ်၍ အသရေရှိသော မိန်း
မတို့နှင့်၊ ထိုမြို့၌ အကြီးအကဲဖြစ်သော သူများကို
ယုဒလူတို့သည် နှိုးဆော်၍၊ ပေါလုနှင့်ဗာနဗတို့
ကိုညှဉ်းဆဲစေသဖြင့် ထိုပြည်၏နယ်မှ နှင်ထုတ်
၅၁ ကြ၏။-တမန်တော်တို့သည်မိမိတို့ခြေဖဝါး၌ကပ်
သော မြေမှုန့်ကို ထိုသူတို့အား ခါလိုက်ပြီးမှ၊ ဣ
၅၂ ကောနိမြို့သို့ သွားကြ၏။- တပည့်တော် များ တို့
သည် ဝမ်းမြောက် ခြင်းနှင့်၎င်း၊ သန့်ရှင်း သော
ဝိညာဉ်တော်နှင့်၎င်းပြည့်စုံကြ၏။

၁၄

၁ ဣကောနိမြို့သို့ရောက်လျှင် ထိုသူနှစ်ယောက်
တို့သည်ယုဒတရားဇရပ်သို့ဝင်၍ ဟောပြောသ
ဖြင့်၊ယုဒလူ၊ဟေလသလူများအပေါင်းတို့သည်
၂ ယုံကြည်ခြင်းသို့ရောက်ကြ၏။-မယုံကြည်သော
ယုဒလူတို့သည်တပါးအမျိုးသားတို့ကို နှိုးဆော်
၍၊ ညီအစ်ကို တို့အား မနာလို သော စိတ် ရှိစေ
၃ ခြင်းငှါချောစားကြ၏။- ထိုကြောင့်၊ ကြာမြင့်စွာ
နေ၍ သခင်ဘုရား ၏ တရား တော် ကို မ ဆုတ်မ
ဆိုင်းဟောပြောလေ၏။ သခင်ဘုရားသဉ် ထည်း
ကျေးဇူးတရားတော်တက်၌သက်သေခံတော်မူ
လျက်၊တမန်တော်တို့ သည်နိမိတ်လက္ခဏာ၊အံ့
ဩဘွယ်သောအမှုတို့ကို ပြုနိုင်မည်အကြောင်း အ
၄ ခွင့်ပေးတော်မူ၏။- ထိုမြို့သူမြို့သားအပေါင်းတို့
သည်ကွဲပြားခြင်းရှိ၍၊ အချို့ တို့သည်ယုဒလူတို့
ဘက်၌၎င်း၊ အချို့တို့သည်တမန်တော်တို့ဘက်၌
၅ ၎င်းနေကြ၏။-မင်းအရာရှိတို့နှင့်ယုဒအမျိုးသား၊
တပါး အမျိုး သားတို့သည် တမန် တော်တို့ကို
ညှဉ်းဆဲ၍၊ ကျောက်ခဲနှင့် ပစ်မည်ဟု တတုန်
၆ တည်းပြေးသောကြသည်အကြောင်းကို၊- တမန်
တော်တို့သည်သိလျှင်၊ လုကောနိပြည်၌ လုတ္တ
ရမြို့၊ ဒေရဗေမြို့မှစ၍ ကျေးထက်များသို့ ထွက်
၇ ပြေး၍၊- ထိုအရပ်တို့၌ဧဝံဂေလိတရားကိုဟော
ပြောကြ၏။

၈ အမိဝမ်းတွင်းကပင် ခြေမစွမ်းသဖြင့်၊ တခါ
မျှမသွားဘူးသော လူတယောက်သည် လုတ္တရ
၉ မြို့၌ ထိုင် လျက်၊- ပေါလု ဟော ပြော သည် ကို
ကြားလေ၏။ပေါလုသည်ထည်း ထိုသူကိုစေ့စေ့
ကြည့်ရှု၍ ရောဂါကင်းမည်အကြောင်းသူ၌ယုံ

၁၀ ကြည်ခြင်း ရှိသည်ကို သိမြင်လျှင်၊- ထ၍ မတ်
တတ်ရပ်လော့ဟု၊ကြီးသောအသံနှင့်ဆိုသဖြင့်၊
ထိုသူသည် ရုပ်တရက်ထ၍ ဖျမ်းသွားလေ၏။-
၁၁ ပေါလုပြုသော အမှုကို မြင်သော လူအစုအဝေး
တို့က၊နတ်ဘုရားတို့သည် လူအရောင်ကိုဆောင်
၍၊ငါတို့ရှိရာသို့ဆင်းသက်ပါသည် တကား၊ဟု
လုကောနိဘာသာစကားအားဖြင့်အသံကိုလွှင့်
၁၂ ၍ ဆိုကြ၏။- ပေါလု သည် သာ၍ ဟော ပြော
သောကြောင့်သူကိုဟေရမေဟူ၍၎င်း၊ဗာနဗကို
၁၃ ဇုသဟူ၍၎င်းခေါ်ဝေါ်ကြ၏။-ထိုမြို့ရှေ့၌ရှိသော
ဇုသ၏ ယဇ်ပုရောဟိတ် သည် နွားနှင့် ပန်းကုံး
ကို မြို့တံခါးနားသို့ယူခဲ့၍၊ လူအစုအဝေးတို့နှင့်
၁၄ တကွယဇ်ပူဇော်မည်ပြုသည်ကို၊- တမန်တော်
ဗာနဗနှင့် ပေါလုတို့သည် သိတင်းကြားလျှင်၊
မိမိ တို့ အဝတ် ကို ဆုတ်၍ လူစု ထဲသို့ ပြေးဝင်
၁၅ လျက်၊- အချင်းလူ တို့၊ အဘယ်ကြောင့် ဤသို့ပြု
ကြသနည်း။ ငါတို့သည် သင်တို့ကဲ့သို့ ထောက်ခံ
တရား၌ ကျင်လည်သော သူ ဖြစ်ပါ၏။ သင်တို့
သည် ဤအချည်းနှီးသော အရာတို့ကိုပယ်ကြ၍၊
ကောင်းကင်၊မြေကြီး၊ သမုဒ္ဒရာမှစ၍အရပ်ရပ်
တို့၌ ရှိသေသမျှ တို့ကို ဖန်ဆင်းတော် မူ၍၊ အ
သက် ရှင် တော်မူသောဘုရားသခင် ထံတော်သို့
ပြောင်းလဲရကြမည် အကြောင်း၊ ငါတို့သည်ဧဝံ
၁၆ ဂေလိတရားကိုဟောပြောကြ၏။-ရှေးလွန်လေ
ပြီးသောကာလတို့၌၊ လူအမျိုးမျိုး တို့သည် မိမိ
တို့ အလို အ လျောက် ကျင့် ကြ မည် အကြောင်း၊
၁၇ ဘုရားသခင်သည် အလွှတ်ထားတော်မူ၏။- သို့
သော်လည်း၊သင်တို့အားကျေးဇူးပြုလျက်၊ အ
စာအာဟာရနှင့် ဝပြော၍ ဝမ်းမြောက်စေ ခြင်း
ငှါ၊ မိုဃ်းကောင်းကင်မှ မိုဃ်းရွာစေတော်မူ၍၊
အသီးအနှံ တို့ကို သီးစေတတ်သော ဥတုကိုပေး
တော် မူသော အားဖြင့်၊ ကိုယ်တော် ရှိ တော် မူ
သည်ကိုသက်သေမခံဘဲနေတော်မမူဟု၊ ပေါလု
၁၈ နှင့်ဗာနဗသည်ကျွေးကြော်လေ၏။-ထိုသို့ကျွေး
ကြော်သဖြင့် လူအစုအဝေးတို့သဉ်ယဇ်ပူဇော်
ခြင်းကို မပြုရမည်အကြောင်း၊ ခြစ်တား ခဲသော
အမှုကိုခြစ်တားလေ၏။

၁၉ ထိုအခါ ယုဒလူတို့သည်အန္တိအုတ်မြို့၊ဣကော
နိမြို့မှလာကြ၍ လူအစု အဝေး တို့ကို ဖြားယွတ်
ထိုင်ပင်ပြီးလျှင်၊ ပေါလုကိုကျောက်ခဲနှင့်ပစ်၍
သေပြီဟု မိတ်ထင်နှင့် မြို့ပြင်သို့ ဆွဲငင်ကြ၏။-
၂၀ တပည့်တော်တို့သည်ဝန်းရံ၍နေကြစဉ်၊ပေါလု

ဆုံဆည်း၍မြို့ထဲသို့ဝင်ပြန်၏၊ နက်ဖန်နေ့၌ဗာနဗ
၂၀ နှင့်အတူဒေရဗေမြို့သို့ထွက်သွားလေ၏။- ထိုမြို့
၌ ဧဝံဂေလိတရားကိုဟောပြော၍ လူများတို့ကို
တပည့်တော်ဖြစ်စေပြီးမှ၊ လုတ္တြမြို့၊ ဣကောနိမြို့၊
အန္တိအုတ်မြို့တို့ကို အစဉ်အတိုင်းလှည့်လည်၍
၂၂ ဖြန့်ကြ၏။- ထိုသို့ပြန်ကြစဉ်၊ တပည့်တော်များ
၏စိတ်နှစ်လုံးကို မြဲမြံ ခိုင်ခံ့စေသဖြင့်၊ ယုံကြည်
ခြင်း၌တည်ကြည်မည်အကြောင်း၊ နှိုးဆော် ခြိုး
ပင့်၍၊ ငါတို့သည်များပြားသောဆင်းရဲဒုက္ခကို
ခံ၍ဘုရားသခင်၏နိုင်ငံတော်သို့ဝင်ရကြမည်ဟု
၂၃ ဟောပြောပြဋ္ဌာန်းကြ၏။- အသင်းတော်များတို့
၌သင်းအုပ်တို့ကိုခန့်ထား၍၊ အစာရှောင်လျက်
ဆုတောင်းပဌနာပြုပြီးလျှင်၊ သင်းဝင်သူတို့ယုံ
ကြည်သောသခင်ဘုရား၏ လက်တော်သို့ထိုအ
၂၄ သင်းတော်တို့ကို အပ်နှံကြ၏။- ပိသိဒိပြည်တ
ပြည်လုံးကိုရှောက် သွား၍ ပံဖုလိပြည်သို့ရောက်
၂၅ လျှင်၊- ပေရဂေမြို့၌နှုတ်ကပတ်တရားတော်ကို
၂၆ ဟောပြော၍အတ္တလိမြို့သို့သွားကြပြန်၏။- ထို
မြို့မှသင်္ဘောစီး၍လွှင့်သဖြင့်၊ မိမိတို့ဆောင်ရွက်
ခဲ့ပြီး သောအမှုအလိုငှါ ဘုရားသခင်၏ ကျေးဇူး
တော်သို့အပ်နှံ၍စေလွှတ်သောအန္တိအုတ်မြို့သို့
၂၇ ရောက်လာကြ၏။-ထိုမြို့သို့ရောက်ပြီးလျှင်သင်း
ဝင်သူတို့ကို စုဝေးစေ၍၊ မိမိတို့အားဖြင့် ဘုရား
သခင်သည် ပြုတော်မူသမျှ တို့ကိုဧ၊ ယုံကြည်
ခြင်းတံခါးကို တပါး အ မျိုး သား တို့ အား ဖွင့်
၂၈ တော်မူကြောင်းကိုဧပြန်ကြားကြ၏။- ထိုမြို့၌
ထည်း၊တပည့်တော်တို့နှင့်အတူကြာမြင့်စွာနေ
ကြ၏။

၁၅

၁ ယုဒပြည်မှ အန္တိအုတ်မြို့သို့ ရောက် လာ သော
သူအချို့တို့က၊ သင်တို့သည်မောရှေ၏တရားအ
တိုင်းအရေဖျားလှီးခြင်းကို မခံလျှင်၊ ကယ်တင်
တော်မူခြင်းသို့ မရောက် နိုင်ဟု၊ ညီအစ်ကို တို့
၂ အားဆုံးမသြဝါဒပေးကြ၏။-ထိုသူတို့နှင့်ပေါလု၊
ဗာနဗတို့သည် ဆွေးနွေးငြင်းခုံခြင်း များသော
အခါ၊ ပေါလုနှင့် ဗာနဗ တို့သည် အ ခြားသော
တပည့်တော်အချို့တို့နှင့်တကွ၊ ထိုပြဿနာ၏အ
ကြောင်းကြောင့်ယေရုရှလင်မြို့၌ ရှိသောတမန်
တော်တို့နှင့် သင်းအုပ်တို့ထံသို့ သွား ရမည် အ
၃ ကြောင်းကို စီရင်ကြ၏။- အ သင်း တော် သည်
ထမ်းဖို့ရှိသဖြင့်၊ပေါလုနှင့်ဗာနဗတို့သည်ဖိနိတ်
ပြည်နှင့် ရှမာရိပြည်ကို ရှောက်သွား၍၊ တပါး
အမျိုးသားတို့ ပြောင်းလဲခြင်း အကြောင်း အရာ
ကိုကြားပြောသဖြင့်၊ ညီအစ်ကို အပေါင်းတို့ကို
၄ အလွန်ဝမ်းမြောက်စေကြ၏။- ယေရုရှလင်မြို့သို့
ရောက်လျှင်၊ တမန်တော်တို့နှင့်သင်းအုပ်တို့မှစ
၍သင်းဝင်သူများတို့တွင် ထက်ခံခြင်းကျေးဇူး
ကိုခံ၍၊ မိမိတို့အားဖြင့် ဘုရား သခင် ပြုတော်မူ
သမျှတို့ကိုပြန်ကြားကြ၏။
၅ ဖာရိရှဲ ဂိုဏ်းက ယုံကြည် သော သူ အ ချို့ တို့
သည်ထလျက်၊တပါးအမျိုးသားတို့အား အရေ
ဖျားလှီးခြင်းကိုပေးရမည်၊ မောရှေ၏တရားကို
၆ ကျင့်စေခြင်းငှါဆုံးမရမည်ဟု ဆိုကြ၏။- ထိုအခါ
တမန်တော်တို့နှင့် သင်းအုပ်တို့သည်ထိုအမှုကို
၇ ကြည့်ရှု ဆင်ခြင်ခြင်းငှါ စည်းဝေးကြ၏။- များ
စွာသောဆွေးနွေးငြင်းခုံခြင်းရှိသောအခါ၊ ပေ
တရုသည်ထလျက်၊ ညီအစ်ကိုတို့၊ ဘုရားသခင်
သည်ရှေးဦးစွာငါတို့တွင်ရွေးကောက်တော်မူ၍၊
ငါဟောပြောသော အားဖြင့် တပါး အမျိုးသား
တို့သည်ဧဝံဂေလိတရားကိုကြားနာ၍ ယုံကြည်
ရမည်အကြောင်း၊ စီရင်တော်မူသည်ကို သင်တို့
၈ သိကြ၏။- စိတ်နှစ်လုံးကိုသိတော်မူသော ဘုရား
သခင်သည်သန့်ရှင်းသော ဝိညာဉ်တော်ကိုငါတို့
အား ပေးသည်နည်းတူ သူတို့အား ပေးသဖြင့်၊
သူတို့ဘက်၌သက်သေခံတော်မူ၏။
၉ ယုံကြည်ခြင်းအားဖြင့်ထည်း၊သူတို့၏စိတ်နှစ်
လုံးကို စင်ကြယ်စေ၍ ငါတို့ကိုခြားနားစေတော်
၁၀ မမူ။- သို့ဖြစ်လျှင်၊ငါတို့နှင့်ငါတို့ဘိုးဘေးများမ
ထမ်းနိုင်သော ထမ်းဘိုးကို တပည့် တော် တို့၏
လည်ပင်းပေါ်၌တင်စေခြင်းငှါ အ ဘယ်ကြောင့်
၁၁ ဘုရားသခင်ကိုစုံစမ်းကြသနည်း။-သခင်ယေရှု
၏ကျေးဇူးတော် အား ဖြင့် သာ ထို သူ တို့ သည်
ကယ်တင်တော်မူခြင်းသို့ ရောက်သည်နည်းတူ၊
ငါတို့ သည်လည်း ရောက်ရမည်ကို ငါတို့ ဆည်
၁၂ ယုံကြ၏ဟုပေတရုပြောဆို၏။- ထိုအခါ ဗာနဗ
နှင့်ပေါလုတို့သည်၊မိမိတို့အားဖြင့်တပါးအမျိုး
သားတို့တွင် ဘုရား သခင် ပြုတော် မူသမျှ သော
နိမိတ်လက္ခဏာ၊ အံ့ဩယ်သောအမှုတို့ကိုကြား
ပြောသည်ကို၊ စုဝေးသော သူအပေါင်းတို့သည်
တိတ်ဆိတ်စွာနေ၍နားထောင်ကြ၏။
၁၃ ထိုသူတို့သည်အကုန်အစင်ပြောဆိုပြီးမှ၊ယာ
ကုပ်က၊ညီအစ်ကိုတို့၊ငါစကားကိုနားထောင်ကြ
၁၄ လော့။- ဘုရားသခင်သည်မိမိနာမအဖို့၊ တပါး
အမျိုးသားတို့အထဲက အချို့သောသူတို့ကိုနှုတ်

ထူခြင်းငှါ၊ ရှေးဦးစွာတပါးအမျိုးသားတို့ကိုအ
ကြည့်အရှုကြွလာတော်မူသည် အကြောင်းအ
၁၅ ရာကိုရှိမုန်သည်ဟောပြောခဲ့ပြီ။-ထိုအကြောင်း
အရာသည်ထည်းပရောဖက်တို့၏စကားနှင့်ညီ
၁၆ ၏။- ကျမ်းစာလာသည်ကား၊ ငါ၏နာမဖြင့်သ
ရုတ်သော တပါးအမျိုးသား အပေါင်းတည်းဟူ
သော၊ ကျန်ကြွင်းရစ်သော သူတို့သည် ထာဝရ
ဘုရားကိုရှာစေခြင်းငှါနောက်မှငါပြန်လာမည်။-
၁၇ လဲကျွတ်ရှိသောဒါဝိဒ်၏တဲကိုဆောက်ထည်ပြန်
မည်။ပြိုပျက်ရာရှာကိုထည်းပြုပြင်ပြီးလျှင်၊ထို
၁၈ တဲကို မတ်စေပြန်မည်ဟု၊- ဤအမှုအရာတို့ကိုမိ
ရင်တော်မူသောထာဝရဘုရား၏ဗျာဒိတ်တော်ရှိ
၏ဟုထာသတည်း။ ဘုရားသခင်သည်ကမ္ဘာဦး
မှစ၍မိမိမိရင်တော်မူသမျှသောအမှုအရာတို့ကို
၁၉ သိတော်မူသည်။-ထိုကြောင့်၊တပါးအမျိုးသား
တို့ အထဲမှ ဘုရား သခင် ထံတော်သို့ ပြောင်းလဲ
၂၀ သော သူတို့ကို မ နှောင့်ရှက် ဘဲလျက်၊- ရုပ်တု
တို့၏ညစ်ညူးရာကိုင်၊ မတရားသော မေထုန်ကို
ငှင်၊ထည်ပင်းကိုညှစ်၍သတ်သောအရာကိုင်၊
အသွေးကိုင်ကြည်ရှောင်စေခြင်းငှါ၊ သူတို့ကို
၂၁ မှာ ထိုက် သင့် သည် ဟု ငါ သ ဘော ရှိ၏။- အ
ကြောင်းမူကား၊ မောရှေ၏ ပ ည တ်ကျမ်းကို
တရားစရပ်၌ ဥပုသ်နေ့တိုင်း ဖတ်ရွတ် သဖြင့်၊
မောရှေ၏ တရားကို ရှေးကာလ မှစ၍ ခပ်သိမ်း
သောမြို့တို့၌ ဟောပြောလေ့ရှိသည်ဟု၊ ယာကုပ်
ပြောဆို၏။

၂၂ ထိုအခါ တမန်တော်တို့နှင့် သင်းအုပ်တို့မှစ၍
သင်းဝင်သူ အပေါင်း တို့သည်၊ မိမိ တို့ အ ထဲ ၌
ရွေးကောက်၍ ညီအစ်ကိုတို့တွင် ထင်ရှားသော
သူတည်းဟူသောဗာရှဗအမည်သစ်ကိုရသော
ယုဒနှင့်သိလတို့ကို၊အန္တိအုတ်မြို့သို့ပေါလု၊ ဗာ
နဗ တို့နှင့်တကွ စေ လွှတ် မည် အ ကြောင်း၊၊ သ
၂၃ ဘောညီညွတ်ကြ၏။- သူတို့ထက်ခြင့်ပေးလိုက်
သောစာဟူမူကား၊၊ တမန်တော်၊ သင်းအုပ်၊ ညီ
အစ်ကို ရှာ၊ တို့ သည်၊ အန္တိအုတ် မြို့မှစ၍ ရှုရိ
ပြည်၊ကိလိကိပြည်တို့၌ရှိနေ၍တပါးအမျိုးသား
ဖြစ်သောညီအစ်ကိုတို့ကိုမေတ္တာနှင့်ကြားလိုက်
၂၄ ပါ၏။- လူအချို့တို့သည်ငါတို့အခွင့်မရှိဘဲငါတို့
ထံမှ ထွက်သွား၍၊ သင်တို့သည် အရေဖျားလှီး
ခြင်းကိုခံရမည်။ ပညတ်တရားကိုကျင့်ရမည်ဟူ
သောစကားဖြင့်၊သင်တို့၏စိတ်နှစ်လုံးကိုနှောင့်
ရှက် ဖျက်ဆီးသည်ကို ငါတို့ ကြား ရသည် ဖြစ်
၂၅ ၍။- ငါတို့အသင်းသည်စုရုံး၍နာမတော်ကြောင့်
မိမိအသက်ကိုစွန့်စားသောသူတည်းဟူသော-
၂၆ ငါတို့ချစ်သောဗာနဗ၊ ပေါလုတို့နှင့်တကွ၊ ရွေး
ကောက် သော သူတို့ကို သင်တို့ ဆီသို့ စေလွှတ်
ခြင်းငှါ တညီ တညွတ် တည်း။ မိရင်သည်နှင့် အ
၂၇ ညီ၊- ဤ အကြောင်း၊ အရာကို သင်တို့အား နှုတ်
ဖြင့် ကြား၊ စေ ခြင်း ငှါ ယုဒ နှင့် သိလ တို့ ကို စေ
၂၈ လွှတ်ကြ၏။- ရုပ်တု ရှေ့မှာ ပူဇော်သော ထမင်း
၂၉ ကောင်ကိုင်၊အသွေးကိုင်၊-ထည်ပင်းကိုညှစ်
၍သတ်သောအရာကိုင်၊ မတရားသော မေထုန်
ကိုင်၊ ကြည်ရှောင် ရမည်ဟူသော ပညတ်မှတ
ပါးအခြားသောဝန်သင်တို့၏အပေါ်၌ တင်ခြင်း
ငှါ၊ သန့်ရှင်းသော ဝိညာဉ်တော်နှင့် ငါတို့သည်
အလိုမရှိ။ ထိုအရာရှာကို ကြည်ရှောင် အစ်၏
ထွန်းမော ကြပါစေသော ဟု ရေး၍ ပေးလိုက်သ
တည်း။

၃၀ ထိုသူတို့သည် သွားရသောအခွင့်ရှိသဖြင့်အန္တိ
အုတ် မြို့သို့သွား၍၊ လူအပေါင်းတို့ကို စုဝေးစေ
၃၁ ပြီးလျှင်မှာစာကိုအပ်ပေးကြ၏။- မှာစာကိုဖတ်
ရွတ်သောအခါ ထိုသက်သာခြင်း၏ အကြောင်း
၃၂ ကြောင့်ဝမ်းမြောက်ခြင်းသို့ရောက်ကြ၏။- ယုဒ
နှင့် သိလ တို့သည် ပရောဖက် ဖြစ်သောကြောင့်
များစွာသောစကားနှင့်ညီအစ်ကိုတို့ကိုဆုံးမ၍မြဲ
၃၃ မြိုင်ခဲ့စေကြ၏။- ထိုသူတို့သည်အတန်အရာနေ
ပြီးမှ၊ တမန်တော်တို့ထံသို့ ငြိမ်သက်စွာပြန်စေ
၃၄ ခြင်းငှါညီအစ်ကိုတို့သည်အခွင့်ပေးကြ၏။- ထို့
သော်ထည်း၊ သိလသည် အလို အလျောက် နေ
၃၅ ရစ်၏။- ပေါလုနှင့် ဗာနဗ တို့သည်ထည်းအန္တိ
အုတ်မြို့၌ နေလျက်၊ အခြားသော သူရှာ၊ တို့နှင့်
တကွဆုံးမြွဲဝါဒပေး၍၊ သခင်ဘုရား၏နှုတ်က
ပတ် တရားတည်း ဟူသော ဧဝံဂေလိ တရား ကို
ဟောပြောကြ၏။

၃၆ အချိန်ကာလကြာသောအခါ၊ပေါလုက၊ငါ
တို့သည် သခင်ဘုရား၏ နှုတ် ကပတ် တရားကို
ဟောပြောခဲ့သော မြို့ရှာ၊တို့၌ ရှိသော ညီအစ်
ကိုတို့သည် အဘယ်သို့ရှိနေသည်ကို ကြည့်ရှု၍
၃၇ ပြန်သွားကြကုန်အံ့ဟု၊ဗာနဗအား ဆို၏။-ဗာန
ဗသည် မာကုအမည်ရှိသော ယောဟန်ကိုခေါ်
၃၈ မည်ဟုအကြံရှိ၏။- ပေါလုက၊ ပံဖုလိပြည်၌သူ
တို့နှင့်ခွာ၍အမှုထမ်းရာသို့မလိုက်မသွားသော
၃၉ ထိုသူကို မခေါ်သင့် ဟု ထ သော ရှိ၏။- ထို အ
ကြောင်းနှင့် အငြင်းအခုံ မသင့်သဖြင့် တခြားစီ



 

သွား၍၊ ဗာနဗသည်မာကုကိုခေါ်ပြီးလျှင် ကုပ
၃၉ ရုကျွန်းသို့သွင့်သော်၏။-ညီအစ်ကိုတို့သည်ပေါလု
ကို ဘုရားသခင်၏ ကျေးဇူး တော်သို့ အပ်နှံ ကြ
သဖြင့်၊သူသည်သိလကိုရွေးချယ်ပြီးလျှင် ထွက်
၄၀ ၍၊- အသင်းတော်များကိုမြဲမြံမိုင်ခံ့စေလျက်၊ ရှု
ရိပြည်၊ကိလိကိပြည်တို့ကိုရှောက်သွားသော်၏။

၁၆

၁ ထိုနောက်မှ ပေါလုသည် ဒေရဗေမြို့နှင့်လုတ္တ
ရမြို့သို့ရောက်သော်၏။ လုတ္တရမြို့၌တိမောသေအ
မည်ရှိသောတပည့်တော်တယောက်ရှိ၏။ သူ၏
အမိ ကား၊ ယုံကြည် သော ယုဒ မိန္မ ဖြစ်၏။ အဖ
၂ ကား၊ဟေလသလူဖြစ်၏။- ထိုသူသည် လုတ္တရ
မြို့၊ဣကောနိမြို့၌ ရှိသောညီအစ်ကိုတို့တွင် အသ
၃ ရေရှိသောသူဖြစ်၏။- ပေါလုသည်ထိုသူကိုခေါ်
ခြင်းငှါ အလိုရှိ၍၊ သူ၏အဖသည် ဟေလသ လူ
ဖြစ် သည် ကို ထို အရပ် တို့၌ ရှိသော ယုဒ လူအ
ပေါင်းတို့သည် သိသောကြောင့်၊ အရေဖျားလှီး
၄ ခြင်းကိုသုအားပေးသော်၏။- သူတို့သည် မြို့များ
ကို ရှောက်သွား စဉ်တွင်၊ ယေရု ရှလင်မြို့၌ နေ
သောတမန်တော်တို့နှင့် သင်းအုပ်တို့သည်စီရင်
သောပညတ်တို့ကို အသင်းများကျင့်စောင့်မှုရ
၅ အပ်ပေးကြ၏။- ထိုသို့ အသင်း တော်တို့ သည်
ယုံကြည်ခြင်း၌တည်ကြည်မြဲမြံသည်ဖြစ်၍၊ အ
ရေအတွက်အားဖြင့် တနေ့ထက်တနေ့ တိုးပွား
၆ များ ပြား ကြ၏။- ဖြုဂိပြည်၊ ဂလာတိ ပြည် ကို
ရှောက် သွား ပြီး မှ အာရှ ပြည်၌ နှုတ် က ပတ်
တရားတော်ကိုမဟောစေခြင်းငှါ သန့်ရှင်းသော
ဝိညာဉ် တော် သည် မြစ် တား တော် မူ သ ဖြင့်၊-
၇ မုသိပြည်သို့ရောက်၍၊ ဗိသုနိပြည်သို့သွားမည်
ပြုကြစဉ်၊ဝိညာဉ်တော်သည်အခွင့်ပေးတော်မ
၈ မူသောကြောင့်၊- မုသိပြည်အနားမှာရှောက်၍
တရောမြို့သို့ရောက်ကြ၏။
၉ ညဉ့်အခါပေါလုသည်ဗျာဒိတ်ရူပါရုံကိုမြင်
ရ၍၊မာကေဒေါနိလူတယောက်က၊မာကေဒေါနိ
ပြည်သို့ ကူးပါ။ ငါ တို့ကို မစပါဟု၊ ရပ် လျက်
၁၀ တောင်းပန်၏။- ထိုဗျာဒိတ်ရူပါရုံကိုမြင်ရလျှင်၊
မာကေဒေါနိပြည်၌ ဧဝံဂေလိတရားကိုဟောစေ
ခြင်းငှါ သခင်ဘုရားသည် ငါတို့ကို ခေါ်တော်မူ
သည်ဟု ငါတို့ သဘော ကျ သဖြင့်၊ ထိုပြည် သို့
၁၁ သွားခြင်းငှါချက်ချင်းရှာကြံကြ၏။- ထိုကြောင့်၊
တရောမြို့မှ သင်္ဘောသွင်း၍ သာမောသရက်ကျွန်း
သို့ တည့်တည့်သွားသဖြင့်၊ နက်ဖန်နေ့၌ နာပေါ
၁၂ လိမြို့သို့ရောက်ကြ၏။-ထိုမြို့မှထွက်ပြန်လျှင်မင်း၊
မှုလွှတ်သောမြို့တဦးတူသော၊မာကေဒေါနိပြည်
တပိုင်းကို အစိုးရသော ဖိလိပ္ပိ မြို့သို့ ရောက် ၍
ကာလအတန်အရာနေကြ၏။
၁၃ ဥပုသ်နေ့၌ငါတို့သည်မြို့ပြင်သို့ထွက်လျှင်၊ ပ
ဌနာဇရပ်ရှိတတ်ရာ၊ မြစ်နားသို့သွား၍ ထိုင်ပြီး
မှ၊ ထိုအရပ်၌ စည်းဝေးသော မိန္မတို့အား ဟော
၁၄ ပြောကြ၏။- ထိုအခါနီမောင်းသော အထည်အ
လိပ်ကို ရောင်းသောသွာတိရဲမြို့သူ၊ လုဒိအမည်
ရှိသော မိန္မတယောက်သည် ဘုရားသခင်ကိုကိုး
ကွယ်သောသူဖြစ်၍၊ တရားနာစဉ်တွင် ပေါလု
ဟောပြောသောအရာကို မှိဲ့ဆည်းကပ်စေခြင်း
ငှါ၊ သူ၏စိတ်နှလုံးကို သခင်ဘုရား ဖွင့်တော်မူ
၁၅ ၏။- ထိုမိန္မသည် အိမ်သူအိမ်သား တို့နှင့်တကွ
နှစ်ခြင်းကို ခံပြီးမှ၊ ကျွန်မသည် သခင်ဘုရား၌
အမှန် ယုံကြည်သည်ကို သင်တို့သည် ထင်မှတ်
လျှင်၊ ကျွန်မအိမ်သို့ ဝင်၍ နေကြပါဟု တောင်း
ပန်လျက်ငါတို့ကိုအနိုင်သွေးဆောင်သော်၏။
၁၆ ထိုနောက်မှ ငါတို့သည် ပဌနာဇရပ်သို့ သွား
စဉ်တွင် နတ်ဝင် ဖြစ်၍ အနာဂတ်ကို ဟော သ
ဖြင့်၊ မိမိ သခင်တို့ အား စီး ပွား များကို ပြုတတ်
သော မိန္မငယ်တယောက်သည် ငါတို့ကို ဆီးကြို
၁၇ လေ၏။- ထိုမိန္မငယ်သည်ပေါလုနှင့်ငါတို့နောက်
သို့လိုက်၍၊ ဤသူ တို့ကား၊အကျွတ်တရားလမ်း
ကိုငါတို့ အား ဟောပြော ပြသသော၊ အမြင့်ဆုံး
သောဘုရားသခင်၏ကျွန်ဖြစ်ကြ၏ဟု ကြွေးကြော်
၁၈ လေ၏။- ထိုသို့ အဖန် များစွာ ပြုသော ကြောင့်
ပေါလု သည် စိတ် မသာ ယာ ဘဲ လှည့် ကြည့် ၍၊
သင်သည်သူ၏ အထဲမှထွက်သွားလော့၊ ယေရှု
ခရစ်၏နာမတော်ကိုအမှီပြု၍ငါအမိန့်ရှိ၏ဟု၊ထို
နတ်ကို ဆို သော ခဏချင်းတွင် နတ်သည် ထွက်
၁၉ သွား၏။-သူ၏သခင်တို့သည်နောက်တဖန်စီးပွား
ဖြစ်လိမ့်မည် ဟု မျှော်လင့် စရာ အ ကြောင်း မရှိ
သည်ကိုသိမြင်လျှင်၊ ပေါလုနှင့်သိလတို့ကိုဖမ်း
၂၀ ဆီးဆွဲငင်၍ ရုံးတော်သို့ပို့ကြ၏။- စစ်ကဲမင်းထံ
သို့ရောက်သောအခါ၊ ဤသူတို့သည် ယုဒလူဖြစ်
၂၁ လျက်ငါတို့မြို့ကို နှောင့်ရှက်တတ်ပါ၏။- ရောမ
လူဖြစ်သောငါတို့သည်မခံမယူမကျင့်အပ်သော
ထုံးထုံးတမ်း များကို ဟောပြော သွန်သင်
၂၂ တတ်ပါ၏ဟုလျှောက်ဆိုကြလျှင်၊- စုဝေးသော
လူတို့သည် သူတို့တဖက်၌ တပြိုင်နက် ထကြ၏၊
စစ်ကဲမင်းတို့သည်း သူတို့၏အဝတ်ကို ချွတ်၍၊

၂၃ ကြိမ်လုံးနှင့်ရိုက်စေခြင်းငှါမိန့်ကြ၏။- ရိုက်၍
ဒဏ်ချက်များ ရှိပြီးမှ၊ ထောင်ထဲ သွင်းစေလျက်
ထောင်မှူးကို မှာလိုက်၍၊ ထောင်ထဲမှာ စောင့်
၂၄ ထားကြ၏။- ထိုသို့မှာထားပြီးသော်၊ ထောင်
မှူးသည် အတွင်း ထောင်ထဲမှာ ချုပ်၍ ထိတ်
ခတ်လျက်ထား၏။
၂၅ သန်းခေါင်အချိန်၌ ပေါလုနှင့် သိလတို့သည်
ပဌနာပြု၍ဘုရားသခင်ကိုချီးမွမ်းလျက်သီချင်း
ဆိုကြ၏။ ထောင်ထဲမှာ နှောင်ဖွဲ့ခြင်းကို ခံရ
၂၆ သောသူတို့သည်နားထောင်ကြ၏။- ထိုခဏချင်း
တွင် မြေကြီးသည် ပြင်းစွာ လှုပ်သောကြောင့်
ထောင်မြေရင်းသည်းလှုပ်ရှား၏။ တံခါးရှိသမျှ
တို့သည် ချက်ချင်းပွင့်၍၊ လူအပေါင်း တို့သည်
၂၇ နှောင်ဖွဲ့ခြင်းနှင့် လွတ်ကြ၏။- ထောင်မှူးသည်
နိုး၍ ထောင်တံခါးများပွင့်လျက် ရှိသည်ကိုမြင်
လျှင်၊ နှောင်ဖွဲ့ခြင်းကိုခံရသောသူတို့သည်ထွက်
ပြေးကြပြီဟုထင်မှတ်သည်နှင့်၊ ထားကိုအိမ်မှ
ဆွဲထုတ်၍ ကိုယ် အသက်ကို သတ် မည် ပြုသော်
၂၈ ၏။- ပေါလုကလည်း၊ ကိုယ်ကိုအပြစ်မပြုနှင့်။ ငါ
တို့အပေါင်းသည် ရှိကြ၏ဟု၊ ကြီးသော အသံ
၂၉ နှင့် ထစ် ၍ ပြောဆို၏။- ထောင်မှူးသည် မီး
ထွန်းသောဒီးကိုတောင်းပြီးမှပြေးဝင်၍၊ ပေါလု
နှင့်သိလတို့၏ခြေရင်း၌ တုန်လှုပ်လျက် ပြပ်ဝပ်
၃၀ ထေ၏။- သူတို့ကို ပြင်သို့ ထုတ်ပြီးလျှင်လည်း၊
သခင်တို့၊ အကျွန်ုပ်သည် ကယ်တင်ခြင်းသို့ရောက်
အံ့သောငှါ အဘယ်သို့ ပြုရပါမည်နည်းဟု မေး
၃၁ လျှောက်လေ၏။- ထိုသူတို့ကလည်း၊ သခင်ယေရှု
ခရစ်ကို ယုံကြည်လော့။ ယုံကြည်လျှင် သင်နှင့်
သင်၏အိမ်သူအိမ်သားတို့သည် ကယ်တင်ခြင်း
၃၂ သို့ရောက်ကြလိမ့်မည်ဟုပြောဆိုလျက်၊- ထိုသူ
မှစ၍သူ၏အိမ်၌ ရှိသမျှသောသူတို့အား သခင်
ဘုရား၏ နှုတ်ကပတ် တရား တော်ကို ဟောကြ
၃၃ ၏။- ထိုညည့်၊ ထိုအချိန် နာရီ၌ပင်၊ ထောင် မှူး
သည် ပေါလုနှင့်သိလတို့ကိုယူ၍ ဒဏ်ချက်ရာ
များကို ဆေးကြောပြီးလျှင်၊ မိမိလူအပေါင်းတို့
၃၄ နှင့်တကွ နှစ်ခြင်းကို ချက်ချင်းခံသေ၏။- တဖန်
ပေါလုနှင့်သိလတို့ကို မိမိအိမ်သို့ ခေါ်ပင့် ပြီးမှ
သူတို့ကိုလုပ်ကျွေး၍၊ ဘုရားသခင်ကို ယုံကြည်
လျက် အိမ်သူ အိမ်သား အပေါင်းတို့နှင့် တကွ
ဝမ်းမြောက်ခြင်းသို့ရောက်လေ၏။
၃၅ နံနက်ရောက်သောအခါ စစ်ကဲတို့သည် ရဲလု
လင်တို့ကိုစေလွှတ်၍၊ ထိုလူတို့ကိုလွှတ်စေဟုမှာ
၃၆ ထိုက်ကြ၏။- ထိုစကားကိုထောင်မှူးသည်ပေါလု
အား ကြားပြော၍၊ ကိုယ်တော်တို့ကို လွှတ် စေ
ခြင်းငှါ စစ် ကဲ တို့ သည် စေ လွှတ် ကြ ပါ ပြီ။ ထို
ကြောင့်၊ ယခုထွက်၍ငြိမ်ဝပ်စွာ ကြွသွားတော်
၃၇ မူကြပါဟုလျှောက်လျှင်၊- ပေါလုက၊ ရောမ လူ
ဖြစ်သော ငါတို့ကို စစ်ဆေးသည်အထိုင်၊ မမိရင်ဆဲ
လျှပ်၊ စစ်ကဲတို့သည်ထင်ရှားစွာရိုက်၍ ထောင်
ထဲမှာချောင်ထားပြီးမှ၊ တိတ်ဆိတ်စွာနှင်ထုတ်
ကြမည်လော၊ ထိုသို့မပြုသင့်။ ကိုယ်တိုင်လာ၍
ငါတို့ကို နှုတ် ထုတ်ကြ စေဟု၊ ရဲလုလင်တို့ အား
၃၈ ပြောဆို၏။- ထိုစကားကိုရဲလုလင်တို့သည်စစ်
ကဲတို့အားကြားလျှောက်၍၊ပေါလုနှင့်သိလတို့
သည် ရောမလူ ဖြစ် ကြောင်းကို စစ်ကဲ တို့သည်
ကြားသိသောအခါကြောက်ခြင်းသို့ရောက်၍၊-
၃၉ ကိုယ်တိုင်လာ ပြီးလျှင်၊ ချော့ မော့ သော စကား
နှင့်သူတို့ကို နှုတ် ထုတ်၍၊ထိုမြို့မှထွက် သွားပါမည်
၄၀ အကြောင်းတောင်းပန်ကြ၏။- ထိုအခါ ပေါလု
နှင့်သိလတို့သည်ထောင်မှထွက်၍ လုဒိအိမ်သို့
ဝင်သဖြင့်၊ ညီအစ်ကို များကို တွေ့ မြင်၍ သတိ
သာစေပြီးမှထွက်သွားကြ၏။

၁၇

၁ ထိုနောက်၊ အံဖိပေါလိမြို့၊ အာပေါလောနိမြို့
ကို ရှောက် သွား၍ သက် သာ လော နိတ် မြို့သို့
ရောက်ကြ၏။ ထိုမြို့မှာ ယုဒ တရား ဇရပ်ရှိ၏။-
၂ ပေါလုသည် မိမိ ထုံးစံရှိသည်အတိုင်း ထိုဇရပ်
သို့ဝင်၍၊ ဥပုသ်နေ့သုံးရက်တွင် ကျမ်းစာကိုအ
မှီပြု၍ထိုသူတို့နှင့် ဆွေးနွေး နှီးနှော သဖြင့်၊-
၃ ခရစ်တော်သည် အသေခံရမည်၊ သေခြင်းမှ ထ
မြောက်ရမည်၊ ငါဟောပြောသော ယေရှုသည်
ခရစ်တော် ဖြစ်သည်ဟူသော အကြောင်း အရာ
၄ တို့ကိုရှင်းလင်းစွာဖွင့်ပြလေ၏။- ထိုသူအချို့တို့
သည်ယုံကြည်ခြင်းသို့ ရောက်၍၊ပေါလု၊ သိလ
တို့နှင့်ပေါင်းဖော်ကြ၏၊ဘုရားကိုကိုးကွယ်သော
ဟေလသလူအပေါင်းတို့နှင့်ထင်ရှားသောမိန်းမ
၅ များတို့လည်းယုံကြည်ကြ၏။- ယုဒလူတို့သည်
ဆိုးယုတ်လျှပ်ပေါ်သောသူအချို့တို့ကို ခေါ်၍
လူများကို စုဝေးစေပြီးလျှင်၊ မြို့၌ဗုတ်ဗုတ်သဲ
သဲပြုကြ၏။ ယာသုန်၏အိမ်ကိုဝိုင်း၍သူတို့ကိုလူ
၆ များရှေ့သို့ဆွဲထုတ်ခြင်းငှါရှာကြ၏။-မတွေ့လျှင်၊
ယာသုန်နှင့် ညီအစ်ကို အချို့တို့ကို မင်းအရာရှိ
တို့ထံသို့ ဆွဲငင်၍၊ လောကီနိုင်ငံကို မှောက်လှန်
သောဤသူတို့သည် ဤအရပ်သို့တိုင်အောင် ရောက်



 

၇ ကြိုဆိုပြီ– ယာသုန်သည်လည်း၊ ရှေ့ထိုကိုလက်
ခံပါပြီ။ ထိုသူအပေါင်းတို့သည် ကဲသာဘုရင်၏
အမိန့်တော်ကို ဆန့်ကျင်ဘက် ပြု၍၊ ယေရှုအ
မည်ရှိသော ရှင်ဘုရင်တပါးရှိသည် ဆိုတတ်ပါ
၏ဟု ဟစ်ကြော်လျှက်၊–မင်းအရာရှိမှစ၍ စုဝေး
သောသူတို့၏စိတ်ကိုထိုသို့သောစကားအားဖြင့်
၉ နှောင့်ရှက်ကြ၏– ထိုအခါယာသုန်မှစ၍ ကြွင်း
သော သူတို့ကို အာမခံ ပေးစေပြီးမှ လွှတ် လိုက်
ကြ၏။
၁၀ ညဉ့်အခါ ညီအစ်ကိုတို့သည် ပေါလုနှင့်သိ
လကိုဗေရိမြို့သို့ချက်ချင်းလွှတ်လိုက်ကြ၏။ ထိုမြို့
သို့ရောက်လျှင် ယုဒတရားဇရပ်သို့ ဝင်ကြ၏–
၁၁ ဗေရိမြို့သားတို့သည် သက်သာလောနိတ်မြို့
သားတို့ထက်ထူးမြတ်သဖြင့်၊ အလွန်ကြည်ညို
သော စေတနာစိတ်နှင့် နှုတ်ကပတ်တရားတော်
ကို ခံယူ၍၊ မှန်သည် မမှန်သည်ကို သိခြင်းငှါ၊
ကျမ်းစာကို နေ့တိုင်းအစဉ် စေ့စေ့ ကြည့်ရှုကြ
၁၂ ၏– ထိုကြောင့်၊ ယုဒလူအများတို့သည်ယုံကြည်
ခြင်းသို့ရောက်ကြ၏။ အသရေထင်ရှားသောဟေ
လသမိန်းမတို့နှင့်ယောက်ျားအများတို့သည်လည်း
၁၃ ယုံကြည်ကြ၏။– ပေါလုသည်ဗေရိမြို့၌ ဘုရား
သခင်၏ နှုတ်ကပတ်တရားတော်ကို ဟောပြော
သည်ကို၊ သက်သာလောနိတ်မြို့သား ဖြစ်သော
ယုဒလူတို့သည်ကြား၍သိရလျှင်၊ ဗေရိမြို့သို့လာ
ပြန်၍ လူများတို့ကို လှုပ်လှုန်း နှိုးဆော်ကြ၏။–
၁၄ ထိုအခါ ညီအစ်ကိုတို့သည် ပေါလုကို ပင်လယ်
ထိအောင် သွားစေခြင်းငှါ ချက်ချင်း လွှတ်လိုက်
ကြ၏။ သိလနှင့် တိမောသေတို့သည် နေရစ်ကြ
၁၅ ၏။–ပေါလုကိုပို့သောသူတို့သည်အာသင်မြို့တိုင်
အောင် ပို့ဆောင်ပြီးမှ၊ သိလနှင့် တိမောသေတို့
ကို အလျင်အမြန် လာစေခြင်းငှါ မှာစာကို ခံ၍
ပြန်ကြ၏။
၁၆ ပေါလုသည် အာသင်မြို့၌ သိလနှင့်တိမောသေ
တို့ကိုငံ့လင့်၍ နေစဉ်တွင်၊ ထိုမြို့သည်ရုပ်တုတို့
နှင့်အပြည့်ရှိသည်ကိုမြင်လျှင်စိတ်ပူပန်ခြင်းသို့
၁၇ ရောက်၏။– ထိုကြောင့်၊ တရားဇရပ်၌ ယုဒလူမှ
စ၍ ဘုရားကို ကိုးကွယ်သော သူတို့နှင့်၎င်း၊ လူ
များစုဝေးရာအရပ်၌ နေ့တိုင်း တွေ့ကြုံသော သူ
၁၈ တို့နှင့်၎င်း၊ဆွေးနွေး၍ နှီးနှောခြင်းကိုပြု၏။– ထိုအ
ခါ ဧပိကုရုပညာရှိတို့နှင့် သတောအိတ်ပညာရှိ
အချို့တို့သည်ပေါလုနှင့်ဆိုင်ပြိုင်၍၊ အချို့ကား၊ဤ
စကားရှည်သောသူသည်အဘယ်သို့ပြောချင်သနည်း။

ဟုဆို၏။ အချို့ကား၊ ဤသူသည် တပါးသော
နိုင်ငံနတ်ဘုရားတို့၏ အကြောင်းကို ဟောပြော
သောသူဖြစ်ဟန်ရှိသည်ဟု ဆို၏။ ဆိုသည်အ
ကြောင်းကား၊ ပေါလုသည် ယေရှု၏တရားနှင့်
ထမြောက်ခြင်း တရားတည်းဟူသော ဧဝံဂေလိ
၁၉ တရားကို ဟောသတည်း။– ထိုအခါ၊ ထိုသူတို့
သည်ပေါလုကိုခေါ်၍ အာရေယောပ်သို့ ဆောင်
သွားပြီးလျှင်၊ သင်သည် ဟောပြောသော ဤအ
၂၀ သစ်သောတရားကို ငါတို့သိအပ်သလော– ငါတို့
ထိမကျွမ်းသောအရာတို့ကိုသင်သည် ကြား
ပြော၏၊ ထိုအရာများကား အဘယ်သို့ ဆိုလို
၂၁ သည်ကိုငါတို့သိချင်ပါသည်ဟု ဆိုကြ၏– အာ
သင်မြို့သူမြို့သား အပေါင်းတို့ နှင့် ဧည့် သည်
များတို့သည် သိတင်းစကားကိုကြားပြောခြင်းမ
နားထောင်ခြင်းမှတပါး၊ အခြားသောအမှု
ဖြင့်ကာလကိုမလွန်စေတတ်ကြ။
၂၂ ထိုအခါ ပေါလုသည် အာရေ ယောပ် အလယ်၌
ရပ်လျှက်၊ အချင်းအာသင်လူတို့၊ သင်တို့သည်
ခပ်သိမ်းသော အရာတို့၌ နတ် ဘုရား တို့ကို အ
၂၃ လွန်ရိုသေတတ်ကြသည်ကိုငါမြင်ပါ၏– ထင်း
ရှားသွား၍သင်တို့၏ ဘုရားများကို ကြည့်ရှုသည်
တွင်၊ ငါတို့ မသိသော ဘုရား သခင် အဘို့ ဟူ၍
အက္ခရာတင်သောယဇ်ပလ္လင်တခုကိုတွေ့ပါ၏။
သင်တို့သည်မသိဘဲလျက် ကိုးကွယ်သောဘုရား
၂၄ သခင်၏အကြောင်းကိုငါဟောပြော၏– လော
ကဓာတ်မှစ၍ လောကဓာတ်၌ ရှိသမျှသော
အရာတို့ကို ဖန်ဆင်းတော် မူသော ဘုရား သခင်
သည်၊ ကောင်းကင်နှင့်မြေကြီးကို အစိုးရတော်
မူသောအရှင်ဖြစ်၍၊ လူတို့လက်ဖြင့် လုပ်သော
ဗိမာန် ၌ ကျိန်း ဝပ် တော် မူ သည် မ ဟုတ်။–
၂၅ ဘုရား သခင် သည် ခပ်သိမ်း သော သူ တို့အား
အသက်နှင့်တကွ ထွက်သက်ဝင်သက်မှစ၍
ခပ်သိမ်းသောအရာတို့ကို ပေးတော်မူသော အ
ရှင်ဖြစ်၍၊ တစုံတခုကိုအလိုတော်ရှိသကဲ့သို့ လူ
တို့လက်ဖြင့်ကျွေးမွေးခြင်းကို ခံတော်မူသည်မ
၂၆ ဟုတ်။– ဘုရားသခင်သည် မြေတပြင်လုံး၌နေရ
သောလူ အမျိုးမျိုးတို့ကို တသွေး တည်းနှင့် ဖန်
ဆင်းတော်မူ၍၊ လူတို့အားခွဲဝေစီမံသောအချိန်
ကာလကို၎င်း၊လူတို့၏နေရာအပိုင်းအခြားကို၎င်း
၂၇ မှတ်သား တော်မူ၏– အကြောင်းမူကား၊ လူတို့
သည်ဘုရားသခင်ကိုရှာစမ်းသဖြင့်တွေ့ကောင်း
တွေ့ကြလိမ့်မည်အကြောင်းတည်းဟူ၍ထိုနိုင်ထင်

ထည့်၏။ ထိုဘုရားသခင်သည်ငါတို့တွင်အသီးသီးသူ
၂၈ နှင့်မှ ဝေးတော်မူသည် မဟုတ်။- ငါ တို့ သည်
ဘုရား သခင်အားဖြင့် အသက် ရှင်လျက်၊ လှုပ်
ရှားလျက်၊ ဖြစ်လျက် ရှိကြ၏။ ထိုသို့ နှင့် အညီ၊
သင်တို့တွင်ထက်သရေအချို့ တို့က၊ ငါတို့သည်
ကား၊ နွယ်တော်သားပင် ဘုရားမျိုးပေ၊ ဖြစ်ကြ
သေ၏ဟု စပ် ဆိုသတည်း။
၂၉ ထိုသို့ငါတို့သည်ဘုရားသခင်၏အမျိုးအနွယ်
ဖြစ်လျက် နှင့်၊ လူတို့အတတ်အကြံအစည် အား
ဖြင့်ထုလုပ်သောရွှေရုပ်တု၊ ငွေရုပ်တု၊ ကျောက်
ရုပ်တုနှင့်ဘုရားသခင်တူတော်မူသည်ဟု မထင်
၃၀ မှတ်အပ်။- ဘုရားသခင်သည် မိုက်မဲသော အ
မှိန်ကာလထိုကိုအမှုမထား၊ယခုသော်ထည်း၊ထ
ရပ်မှာ၊ ကိုယ်အပြစ်ကိုမြင်၍ နောင်တရကြလော့
ဟု ခပ် သိမ်း သော အ ရပ် တို့၌ ရှိ သော လူအ
၃၁ ပေါင်းတို့အားပညတ်တော်မူ၏။- အကြောင်းမူ
ကား၊ ခန့်ထားတော်မူသော လူအားဖြင့် လော
ကီသားတို့ကိုဖြောင့်မတ်ခြင်းတရားနှင့်ညီလျော်
စွာစစ်ကြောစီရင်မည့်နေ့ရက်ကို မှိန်းချက်တော်
မူပြီ၊ ထိုသူကိုသေခြင်းမှ ထမြောက် စေတော် မူ
သော အား ဖြင့် ခပ် သိမ်း သော လူ တို့ အား ထို
သောက်သော သက်သေကို ပြတော်မူပြီဟု ပေါ
၃၂ လုဟောပြော၏။- သေသောသူတို့၏ထမြောက်
ခြင်းအကြောင်းကို ကြားရလျှင်၊ အချို့ တို့သည်
ကဲ့ရဲ့ကြ၏၊အချို့ တို့က၊ ဤအမှုမှာသင်၏စကား
ကို ငါတို့ သည် နောက်တစ်ဖန် နားထောင်ဦးမည်
၃၃ ဟုဆိုကြ၏။- ထို သို့ ဆိုကြ သော အခါ ပေါလု
၃၄ သည်ထိုသူတို့အထဲမှ ထွက်သွားလေ၏။- လူအ
ချို့ တို့သည်ပေါလု၌ မှီဝဲဆည်းကပ်၍ ယုံကြည်
ခြင်းသို့ရောက်ကြ၏၊ထိုသူတို့အဝင်၌ပေါ့အသိ
အမည်ရှိသော အာရေဩပဂ်မင်း ဒယောနုသိ၊
ဒမာရိ အမည်ရှိသော မိန်းမ တယောက် မှစ၍ အ
ခြားသောသူရှိကြ၏။

၁၈

၁ ထိုနောက်၊ ပေါလု သည် အာသင် မြို့မှ ထွက်
၂ သွား၍ကောရိန္သုမြို့သို့ ရောက်လေ၏။- ထိုအ
ခါ၊လုဒိလုအပေါင်းတို့သည်ရောမမြို့မှထွက်သွား
ရမည့်အကြောင်း၊ ကလောဒိမင်းအမိန့်တော်ရှိ
သည်ဖြစ်၍၊ပုန္တုပြည်သား၊အာကုလအမည်ရှိ
သော ယုဒ လူတယောက်သည် ဣတလိ ပြည်မှ
လာ၍၊မိမိမယားပြစ်ကိလနှင့်တကွမကြာမမြင့်
မှီရောက်လာသည်ကို ပေါလုတွေ့လျှင် ထိုသူတို

၃ ထိုဝင်၍။- အလုပ်ချင်းတူသောကြောင့်၊ထိုသူတို့
နှင့်နေ၍ အလုပ်လုပ်လေ၏၊ ထိုသူတို့သည် တဲ
ရှင်ကိုချုပ်တတ်သောအချုပ်သမားဖြစ်ကြ၏။-
၄ ပေါလုသည်ဥပုသ်နေ့မပြတ်၊ တရားစရပ်
၌ဆွေးနွေးဟောပြော၍၊ ယုဒလူ နှင့် ဟေလသ
၅ လူတို့ကို ဖြားယောင်း သွေးဆောင်လေ၏။- ထိ
ထနှင့် တိမောသေတို့သည် မာကေဒေါနိ ပြည်မှ
ရောက်လာသောအခါ၊ ပေါလုသည် ယုဒလူတို့နှင့်တ
ကွတရား ဟောခြင်းအမှုကိုသာ ဆောင်ရွက်၍၊
ယေရှုခရစ်၏အကြောင်းကို ယုဒလူတို့အားဖြီး
၆ စား၍ သက်သေခံလေ၏။-ယုဒလူတို့သည်ငြင်းခုံ
ဆဲရေးခြင်းကို ပြုသည်ရှိသော်၊ ပေါလုသည်မိမိ
အဝတ်ကိုခါထိုတ်လျက်၊ သင်တို့၏အသွေးသည်
သင်တို့၏ခေါင်းပေါ်၌တည်စေ။ ငါမူကားကင်း
လွတ်၏၊ ယခုမှစ၍ တပါး အမျိုးသားတို့ ထံသို့
၇ သွားမည်ဟု ဆိုပြီး လျှင်၊- ထိုအရပ်မှ ထွက်၍
ဘုရားသခင်ကိုကိုးကွယ် သော ယုတ္တု အမည်ရှိ
သောသူ၏ အိမ်သို့သွား၏။ ထိုအိမ်သည် တရား
၈ စရပ်နှင့်စပ်လျက်ရှိသတည်း။- ကရိပ္ပုအမည်
ရှိ သော တရား စရပ် မှူး သည် မိမိ အိမ် သူ အိမ်
သား အ ပေါင်း တို့နှင့် တကွ သခင် ဘုရားကို ယုံ
ကြည်လေ၏၊ ကောရိန္သုပြည်သား အများတို့
သည်လည်း ယုံကြည်၍ နှစ်ခြင်းကိုခံကြ၏။
၉ ညဉ့်အခါသခင်ဘုရားသည် ပေါလုအားဗျာ
ဒိတ် ရူပါရုံကိုပြ၍၊ သင် သည် မကြောက် နှင့်၊
၁၀ တိတ်ဆိတ်စွာ မနေနှင့်၊ ဟောပြောလော့။- ငါ
သည် သင်နှင့်အတူရှိ၏၊ သင့်ကို ညှဉ်းဆဲခြင်း
ငှါအဘယ်သူမျှ အနိုင်အထက်မပြုရ။ ဤမြို့၌ငါ
၁၁ ၏လူအများရှိကြသည်ဟုမိန့်တော်မူ၏။- ပေါလု
သည် ထို မြို့သူ မြို့သား တို့ အား ဘုရား သခင် ၏
နှုတ်ကပတ်တရားတော်ကို ဟောပြောဆုံးမလျက်
၍တနှစ်နှင့်ခြောက်လပတ်လုံးနေလေ၏။
၁၂ အခါထပြည်ကို ဂါလျုန်မင်း သည်စိုးအုပ်
နှင့်ချုပ်ရိုးသောအခါ ယုဒလူများသည်သဘောညီ
ညွတ်တည်း၊ပေါလုကိုအနိုင်အထက်ပြု၍တရား
၁၃ ပဏ္ဍင်ရှေ့သို့ဆွဲသွားပြီးလျှင်၊-ထိုသူသည်ဘုရား
ကို မတရား သ ဖြင့် ကိုး ကွယ် စေ ခြင်း ငှါ၊ ဤသူ
သည် ဖြားယောင်းတတ်ပါသည်ဟု ဆိုကြ၏။-
၁၄ ပေါလုသည် နှုတ်ကိုဖွင့်မည်ပြုသော်၊ ဂါလျုန်
မင်းက၊အချင်းယုဒလူတို့၊မတရားသောအမှုဆိုး
ညစ်ညူးသောအမှုဖြစ်လျှင်၊ ငါသည်သင်
တို့ ကို အ ကြောင်း၊ ရှိ သည် အ တိုင်း သည်းခံရ

၁၅ စည်း၊- ထိုစကား၊ စကားသော်၎င်း၊ နာမ်ဝါဒ
ရုတ်ခြင်းသော်၎င်း၊ သင်တို့၏ ထာ ထာ တရား
သော်၎င်း၊ သင်တို့သည် အမှီရင်ခံလျှင်ကိုယ်အ
မှုကို စောင့်ကြလော့၊ ထိုသို့သောအမှုကို စီရင်
၁၆ ခြင်းငှါ ငါအလိုမရှိဟုဆိုလျက်၊- ထုံးသူတို့ကို
၁၇ တရားပလ္လင်မှ ပယ်ရှားစေ၏၊- ထိုအခါထေထ
ထလူအပေါင်းတို့သည် တရားဇရပ်မှူးသုဿေင
ကိုဖမ်း၍ တရားပလ္လင်ရှေ့မှာ ရိုက်ကြ၏၊ ထိုအမှု
ကိုထည်းဂါလျိုနိမင်းသည်အမှုမထားဘဲနေ၏၊
၁၈ ထိုနောက်မှပေါလုသည် တာရှည်စွာနေပြီးမှ
ညီအစ်ကိုတို့ကို အခွင့်တောင်း၍ ထိုမြို့မှ ထွက်
သွား၏၊ အထက်ကသစ္စာဂတိပြုသည်နှင့်အညီ
ကင်ခြေမြို့၌ခေါင်းရိတ်ခြင်းကိုခံပြီးလျှင်၊ပြစ်ကိ
လနှင့်အာကုလကိုခေါ်၍ ရှုရိပြည်သို့သင်္ဘောနှင့်
၁၉ ထွက်ခွာ၏၊- ဧဖက်မြို့သို့ရောက်လျှင်၊ တရားဇ
ရပ်သို့ဝင်၍ ယုဒလူတို့နှင့်ဆွေးနွေးနှီးနှောလေ
၂၀ ၏၊- ထိုသူတို့သည် မိမိတို့နှင့်အတူပေါလုနေပါ
ဦးမည့်အကြောင်းတောင်းပန်သောအခါပေါလု
၂၁ သည်ဝန်မခံဘဲလျက်၊- ထာရောက်လုနီးသော
ပွဲကိုယေရုရှလင်မြို့၌ ငါအမှန်ခံရမည်၊ ဘုရား
သခင်အလိုတော်ရှိလျှင်၊နောက်တစ်ဖန်သင်တို့မှ
ရာသို့ငါပြန်ဦးမည်ဟူ၍အခွင့်တောင်းပြီးမှ၊ပြစ်
ဆိလနှင့်အကုလကို ဧဖက်မြို့၌ထား၍ သင်္ဘော
၂၂ နှင့်ထွက်ပြန်လေ၏၊- ကဲသရိမြို့သို့ ရောက်လျှင်
ယေရုရှလင်မြို့သို့ တက်၍၊ အသင်းတော် နှင့်
နှုတ်ဆက်ပြီးမှ အန္တိအုတ်မြို့သို့ သွားပြန်၏၊-
၂၃ ထိုမြို့၌ အတန်အရာနေပြီးလျှင်၊ ထွက်ပြန်၍
ဂလာတိပြည်၊ ဖြူဂိပြည်ကို အစဉ် အတိုင်း
ရှောက်သွားသဖြင့်၊ တပည့်တော် အပေါင်းတို့
ကိုမြဲမြံမိုင်ခံ့စေ၏၊
၂၄ အာပေါလုအမည်ရှိသော အာလေဇန္ဒြိမြို့
သား၊ယုဒလူတယောက်သည် ဧဖက်မြို့သို့ရောက်
လာ၏၊ထိုသူသည်နှုတ်သတ္တိနှင့် ပြည့်စုံ၍ကျမ်း
၂၅ စာ၌ အားကြီးသောသူဖြစ်၏၊- သခင်ဘုရား၏
ဘာသာ၌ လေ့ကျက်၍ စိတ် အား ကြီး သဖြင့်၊
သခင်ဘုရား၏ အကြောင်းအရာကို စေ့စေ့ ဟော
ပြော၍ဆုံးမသြဝါဒပေး၏၊ သို့သော်လည်း၊ယော
၂၆ ဟန်၏နှစ်ခြင်းကိုသာသိ၏၊- ထိုသူသည်တရား
ဇရပ်၌ ရဲရင့်စွာဟောပြောစ ပြုသဖြင့်၊ အာကု
လနှင့် ပြစ်ကိလ တို့သည် သူ၏ စကား ကို ကြား
သောအခါ၊ သူကိုခေါ်၍ ဘုရားသခင်၏ ဘာသာ
၂၇ တရားကိုထင်ရှားစွာသင်ကြားကြ၏၊- ထို
သူသည်အခါယပြည်သို့ သွားခြင်းငှါ အလိုရှိ
သည်ဖြစ်၍၊ တပည့်တော်များ တို့သည် သူကို
လက်ခံမည်အကြောင်း၊ ညီအစ်ကိုတို့သည် မှာ
စာကိုပေးလိုက်ကြ၏၊ထိုသူသည်ရောက်သောအခါ၊
ကျေးဇူးတော်အားဖြင့် ယုံကြည်သောသူတို့ကို
၂၈ အထွန်ထောက်မလေ၏၊- ယေရှုသည်ခရစ်တော်
ဖြစ်တော်မူကြောင်းကို ကျမ်းစာ အားဖြင့် ထင်
ရှားစွာပြ၍၊ လူအပေါင်းတို့ရှေ့မှာ ယုဒလူတို့၏
စကားကိုအားကြီးစွာပယ်ဖျက်လေ၏၊

## ၁၉

၁ အာပေါလုသည်ကောရိန္သုမြို့၌နေစဉ်၊ ပေါ
လုသည်အထက်အရပ်ရှာကို ရှောက်သွားပြီး
မှဧဖက်မြို့သို့ရောက်၍၊ တပည့်တော်အချို့တို့ကို
၂ တွေ့လျှင်၊- သင်တို့သည်ယုံကြည်သည်နောက်၊
သန့်ရှင်းသော ဝိညာဉ်တော်ကို ခံကြပြီလောဟု
မေးသည်မှာသော်၊ သန့်ရှင်းသော ဝိညာဉ်တော်
သက်ရောက် သည်ကို အကျွန်ုပ် တို့ မသိပါဟု
၃ ပြောဆိုကြ၏၊- ပေါလုကလည်း၊ ထိုသို့ဖြစ်လျှင်၊
သင်တို့သည် အဘယ် မည် သော နှစ်ခြင်းကို ခံ
ကြသနည်းဟုမေးလျှင်၊ယောဟန်၏နှစ်ခြင်းကို
၄ ခံပါသည်ဟု ပြောဆိုကြ၏၊- ပေါလုက လည်း၊
ယောဟန်က၊ နောက်ကြွလာသော သူကိုယုံ
ကြည်ရမည်ဟု၊ လူများတို့အား ပြောဆိုလျက်၊
နောင်တနှင့်စပ်ဆိုင်သော နှစ်ခြင်းကိုပေး၏၊ ထို
၅ သို့ဆိုရာ၌ ယေရှုခရစ်ကိုဆိုလိုသည်- ဟူသော
စကားကိုကြားလျှင်၊ထိုသူတို့သည်သခင်ယေရှု
၆ ၏နာမ၌နှစ်ခြင်းကိုခံကြ၏၊-ပေါလုသည်ထို
သူတို့အပေါ်၌လက်ကိုတင်လျှင်၊သန့်ရှင်းသော
ဝိညာဉ်တော်သည်ဆင်းသက်တော်မူသဖြင့်၊ ထို
သူတို့သည် အမျိုးမျိုးသော ဘာသာ စကား ကို
၇ ပြော၍ပရောဖက်ပြုကြ၏၊- ထိုသူတို့သည်အရေ
အတွက်အားဖြင့်တကျိပ်နှစ်ယောက်မျှလောက်
ရှိသတည်း။
၈ ထိုနောက်မှ ပေါလုသည်တရား ဇရပ်သို့ ဝင်
၍ သုံး လ ပတ် လုံး ဘုရား သခင် ၏ နိုင်ငံတော်
အကြောင်း အရာကို ဆွေးနွေး နှီးနှော ၍ ဖြား
ယောင်းသွေးဆောင်သဖြင့် ရဲရင့်စွာဟောပြော
၉ လေ၏၊- အချို့သောသူတို့သည်မိုက်မဲသောစိတ်
ရှိ၍ မယုံကြည်ဘဲ နေလျက်၊ လူများရှေ့မှာ ထို
ဘာသာကို ကဲ့ရဲ့သောအခါ၊ ပေါလုသည်သူတို့
အထဲမှ ထွက်သွား၍ တပည့်တော်တို့ကို အသီး
၁၀ အခြားခွဲထားပြီးမှ၊- တုရန္နုအမည်ရှိသော ကျ

၏စာသင်ဇရပ်၌ နှစ်နှစ်ပတ်လုံး နေ့တိုင်းဟော
ပြောသောအားဖြင့်၊ အာရှပြည်သား ဖြစ်သော
ယုဒလူ၊ ဟေလသ လူအပေါင်း တို့သည် သခင်
ယေရှု၏ နှုတ်ကပတ်တရားတော်ကို ကြားရကြ
၁၁ ၏။- ဘုရားသခင်သည် ပေါလုလက်ဖြင့် အဆွန်
တရာ ထူးဆန်းသော တန်ခိုးများကို ပြတော်မူ
၁၂ သည်ဖြစ်၍၊- ပေါလုသုံးသောပဝါ၊ ခါးပန်းတ
စုစုကို အနာရောဂါရှိသောသူတို့ဆီသို့ပေးလိုက်
၍၊သူတို့သည်အနာရောဂါနှင့်ကင်းလွတ်ကြ၏။
နတ်ဆိုးတို့ထည်းထွက်သွားကြ၏။
၁၃ ထိုအခါ အရပ်ရပ်သို့ လှည့်လည်၍ မိစ္ဆာနတ်
သစ္စာပေးတတ်သောယုဒလူအချို့တို့က၊ ငါပေါလု
ဟောပြောသော ယေရှုကို ငါတိုင်တည်၍ သင်
တို့ကိုမိစ္ဆာနတ်သစ္စာပေး၏ဟုဆိုလျက်၊ နတ်ဆိုးစွဲ
သောသူတို့၏အပေါ်၌သခင်ယေရှု၏ နာမတော်
၁၄ ကို မြွက်စမ်းကြ၏။- သကေဝ အမည် ရှိ သော
ယဇ်ပုရောဟိတ်မင်း၏ သား ခုနစ် ယောက် တို့
၁၅ သည်ထိုသို့ပြုကြ၏။- နတ်ဆိုးကလည်း၊ ယေရှု
ကို ငါသိ၏၊ ပေါလုကို ထည်း ငါ သိ၏။ သင် တို့
၁၆ ကား၊အဘယ်သူနည်းဟုပြောဆိုပြီးလျှင်၊- နတ်
ဆိုးစွဲသောသူသည်ထိုသူတို့ အပေါ်သို့ခုန်တက်
၍နိုင်သဖြင့် လုရက် နှိပ်စက် သောကြောင့်၊ ထို
အိမ်မှ အဝတ်မပါဘဲအနာများနှင့်ထွက်ပြေးစေ
၁၇ ၏။- ထိုအကြောင်းအရာကို ဧဖက်မြို့၌နေသော
ယုဒလူနှင့် ဟေလသလူအပေါင်းတို့သည်ကြား
သိလျှင်၊ ကြောက်ရွံ့ ခြင်း သို့ ရောက်၍၊ သခင်
၁၈ ယေရှု၏နာမတော်ကို ချီးမွမ်းကြ၏။- ယုံကြည်
သောသူအများတို့သည်ထည်းလာ၍၊ မိမိတို့အ
၁၉ ကျင့်ကို ဖော်ပြ လျက် တောင်းပန်ကြ၏။- နတ်
ဝိဇ္ဇာအတတ်ကို သုံးဆောင်သော သူအများတို့
သည်ထည်း၊ မိမိတို့ စာစောင်ကို ယူခဲ့၍ လူအ
ပေါင်းတို့ရှေ့မှာ မီးရှို့ကြ၏။ စာစောင် အဘိုးကို
ခြင့်တွက်သော်၊ ငွေ အသပြာငါးသောင်း ထိုက်
၂၀ သည်ကိုသိကြ၏။- ထိုသို့သခင်ဘုရား၏ သာသ
နာတော်သည် တန်ခိုးနှင့်တိုးပွား၍ အောင်မြင်
လေ၏။
၂၁ ထိုနောက်မှ ပေါလုက၊ ငါသည်မာကေဒေါနိ
ပြည်နှင့်အခါယပြည်ကို ရှောက်သွားပြီးလျှင်၊
ယေရုရှလင်မြို့သို့ သွားမည်။ ထိုမြို့သို့ရောက်ပြီး
သည်နောက်၊ ရောမမြို့ကိုမြင်ရမည်ဟု စိတ်ထဲ၌
၂၂ အကြံရှိသည် ဖြစ်၍၊- မိမိအား လုပ်ကျွေးသော
သူနှစ်ယောက်၊ တိမောသေနှင့်ဧရတ္တု တို့ကိုမာ
ကေဒေါနိပြည်သို့ စေလွှတ်ပြီးမှ မိမိသည်အာရှ
ပြည်၌ခဏနေသေး၏။
၂၃ ထိုအခါ သာသနာတရားကြောင့် ရောက်သော
၂၄ အမှုကြီးဟူမူကား၊- ဒေမေတရိအမည်ရှိသော
ပန်းတိမ်သမားတယောက်သည်အာတေမိနတ်
ဘွိုး၏ ငွေ မိတ်မှန် ငယ်တို့ကို လုပ် သဖြင့်၊ ပန်း
တိမ်သမား တို့အား စီးပွားများကို ပြုတတ်၏။-
၂၅ ထိုသူသည် ပန်းတိမ်သမား တို့နှင့် ထိုသို့သော
အတတ် သမားများကို စုရုံးစေပြီးလျှင်၊ အချင်း
လူတို့၊ ဤအတတ်ကို အမှီပြု၍ငါတို့၌အကျိုးစီး
၂၆ ပွားဖြစ်သည်ကိုသင်တို့သိကြ၏။- ယခုတွင် ထို
ပေါလုက၊ လူလက်ဖြင့်လုပ်သမျှတို့သည်ဘုရား
မဟုတ်ဟု ဆိုသဖြင့်၊ ဧဖက်မြို့မှစ၍ အာရှပြည်
တ ရှောက်လုံး ကုန်မတတ်၊ လူ အပေါင်း တို့ကို
ဖြားယောင်းဆွဲဆောင်သည်ကိုသင်တို့သည်
၂၇ မြင်လျက်၊ကြားလျက်ရှိကြ၏။- ထိုသို့လူများတို့
သည် ငါတို့၏ အတတ်ကို ကဲ့ရဲ့ သည် သာမက၊
ကြီး မြတ် သော နတ် ဘွိုး အာတေမိ ၏ မိတ်မှန်
တော်ကိုပမာဏမပြုသဖြင့်၊အာရှပြည်တရှောက်
လုံးမှစ၍ လောကီ နိုင်ငံသားတို့ ကိုးကွယ်သော
ဘုန်းအသရေတော်သည် ပျက်စီးခြင်းသို့ရောက်
မည်ကိုစိုးရိမ်စရာအကြောင်း ရှိပါသည်ဟုပြော
၂၈ ဆို၏။- ထိုစကားကို ကြားလျှင်၊ ထိုသူတို့ သည်
ဒေါသအမျက်နှင့်ပြည့်သဖြင့်၊ဧဖက်လူတို့၏အာ
တေမိသည် ကြီးမြတ်တော်မူ၏ဟု အော်ဟစ်ကြ
၂၉ ၏။- တမြို့လုံးရုန်းရင်းခတ်မျှဖြစ်၍၊ ပေါလုနှင့်
အတူဒေသစာရီ လှည့်လည်သော မာကေဒေါနိ
လူဂါယုနှင့် အာရိတ္တာခုတို့ကိုဆွဲယူပြီးလျှင်၊ ပွဲ
ခံရာဇရပ်ထဲသို့ ညီညွတ်စွာ တဟုန်တည်းပြေး
၃၀ ဝင်ကြ၏။-ပေါလုသည်လူစုထဲသို့ဝင်ခြင်းငှါအ
လိုရှိလျှင်တပည့်တော်တို့သည်မြစ်တားကြ၏။-
၃၁ ပေါလု၏အဆွေ ဖြစ်သော အာရှ ပွဲမင်းအချို့က
လည်း၊ ပွဲခံရာဇရပ်ထဲသို့ ကိုယ်ကိုမအပ်ပါနှင့်
၃၂ ဟု၊ သူထံသို့ စေလွှတ်၍ တောင်းပန်လေ၏။- စု
ဝေးသောလူတို့သည် ရုန်းရင်းခတ်မျှဖြစ်၍၊ တ
ယောက်တခြားစီ အော်ဟစ်သဖြင့်၊ လူအများ
တို့သည် မိမိ တို့စုဝေးရသည် အကြောင်းကိုပင်
မိမိတို့မသိကြ။
၃၃ ယုဒလူတို့သည် အာလေဇန္ဒြုကို အခွင့် ပေး
၍သူတပါးတို့သည် လူစုရှေ့သို့ သွားစေသဖြင့်၊
သူသည် လက်နှင့် အမှတ် ပေး၍ အပြစ် ဖြေရာ
စကားကို လူများတို့အား ပြော ခြင်းငှါ အလိုရှိ

၃၄ ၏။- သူသည်ယုဒလူဖြစ်သည်ကို သိကြလျှင်၊ ဧ
ဖက်လူတို့၏ အာတေမိသည် ကြီးမြတ်တော်မူ၏
ဟု၊ နှစ်နာရီခန့်မျှထောက်လုပ်ပေါင်းတို့သည်
၃၅ တသံ ဘည်းနှင့် ဟစ်ကြ၏။- မြို့စာရေးသည် လူ
များကိုတိတ်စေပြီးလျှင်၊ ဧဖက်လူတို့၊ ဧဖက်မြို့
သည် ရှုသ ဘုရား ထံမှ ကျ သော ရုပ်တုတော်
တည်းဟူသော ကြီးမြတ်တော်မူသောအာတေမိ
ကိုလုပ်ကျွေးသောဘုရားကျွန်ဖြစ်သည်ကို မသိ
၃၆ သောသူ တစုံ တယောက် ရှိသလော။- ဤအရာ
များတို့သည်ငြင်းခုံဖွယ်မရှိသည်ဖြစ်၍၊သင်တို့
၃၇ သည် တိတ်ဆိတ်စွာနေသင့်ကြ၏။- သတိနှင့်မ
ဆင်ခြင်ဘဲအထယ်အမှုကိုမျှမပြုသင့်ကြ။ မိတ်
မှန်တော်ကို လုယူ ဖျက်ဆီးခြင်းမရှိ၊ သင်တို့၏
ဘုရားကို မကဲ့ရဲ့သော ဤလူတို့ကို သင်တို့ သည်
၃၈ ဆောင်ယူခဲ့ကြပြီတကား။- ဒေမေတရိမှစ၍ သူ
နှင့်အတူ ရှိသော ပန်းတိမ်သမား တို့သည်တစုံ
တယောက်သောသူ၌ အမှုရှိလျှင် ရုံးတော်ရှိ၏၊
မြို့ဝန်မင်းလည်းရှိ၏၊ အမှုသည် ချင်းတရားတွေ့
၃၉ ကြစေ။-သို့မဟုတ်၊သင်တို့သည်အခြားအမှုကို
အစီရင်ခံလိုလျှင်၊ တရားသောအစည်းအဝေး၌
၄၀ စီရင်ရလိမ့်မည်။- ယနေ့ ရုန်းရင်းခတ်ခြင်း ကို
ပြုသောကြောင့် အမှုရောက်မည်ဟု စိုးရိမ်စရာ
ရှိ၏၊အကြောင်းမူကား၊ဤမတရားသောစည်းဝေး
ခြင်းအကြောင်းကို ပြောစရာတစုံတခုမျှမရှိဟု-
၄၁ ဆိုပြီးလျှင်၊အစည်းအဝေးကိုဖျက်လေ၏။

## ၂၀

၁ ထိုရုန်းရင်း ခတ်သော အမှု ငြိမ်း သောအခါ၊
ပေါလုသည်တပည့်တော်တို့ကိုခေါ်၍နှုတ်ဆက်
၂ ပြီးမှမာကေဒေါနိပြည်သို့သွားလေ၏။-ထိုအရပ်
များကိုရှောက်သွား၍တပည့်တော်တို့ကိုစကား
များနှင့်ဆုံးမပြီးမှ ဟေလသပြည်သို့ ရောက်လာ
၃ ၏။- သုံးလ နေပြီးလျှင် ပင်လယ်ကို ကူး၍ ရှုရိ
ပြည်သို့ သွားမည် ပြုသော်၊ ယုဒ လူတို့ သည် မ
ကောင်းသောအကြံကိုကြံသောကြောင့်၊မာကေ
ဒေါနိပြည်လမ်းဖြင့်ပြန်မည်ဟုအကြံရှိပြန်၏။-
၄ ပေါလု နှင့်အတူ အာရှိ ပြည်သို့ လိုက်သော သူ
ဟူ မူကား၊ ဗေရိမြို့သား ဖြစ်သော ပုရု၏ သား
သောပတရု၊ သက်သာလောနိတ် မြို့ သား အာ
ရိတ္တာခုနှင့် သေကုန္ဒု၊ ဒေရဗေ မြို့သား ဂါ ယု၊
လုတ္တရမြို့သားတိမောသေ၊အာရှိပြည်သား၊တု
၅ မိတ်နှင့်တရောဖိမ်တည်း။-ဤသူတို့သည်ငါတို့
အရင်သွား၍တရောမြို့၌ငံ့ထင့်လျှက် နေကြ၏။-

၆ အရှုမဝွဲနေ့ရက်လွန်ပြီးမှ၊ငါတို့သည်ဖိလိပ္ပိမြို့မှ
သင်္ဘောနှင့်ထွက်၍ ငါးရက်အတွင်းတွင် သူတို့ရှိ
ရာတရောမြို့သို့ရောက်၍ခုနှစ်ရက်နေကြ၏။
၇ ခုနှစ်ရက်တွင်ပဌမနေ့ရက်၌ မုန့်ကိုဖဲ့ခြင်းငှါ
စည်းဝေး ကြသော အခါ၊ ပေါလုသည် နက်ဖန်
နေ့၌ ထွက် သွား မည် ဖြစ်၍၊ သန်းခေါင် ထိုင်
၈ အောင်ဟောပြောလျှက်နေလေ၏။-စည်းဝေးရာ
၉ အထက်ခန်း၌မီးခွက်များရှိ၏။- ဥတုခုအမည်ရှိ
သော လုလင် တယောက် သည် ပြတင်းပေါက်
နားမှာထိုင်၍ အိပ်ပျော် ကျူးလွန်လျှက် နေ၏။
ပေါလုသည် ကြာမြင့်စွာ ဟောပြောသည်တွင်၊
ထိုသူသည်အိပ်ပျော်လျှက်အိမ်သုံးဆင့်အထက်
မှအောက်သို့လျှောကျ၍သေသည်ကိုသူတို့သည်
၁၀ ရှိကြ ကြ၏။- ပေါလု သည် ထည်း အောက် သို့
ဆင်း၍ သူ၏ အပေါ်သို့ ကိုယ်ကို လှည်း လျှက်
ဖက်ထမ်းပြီးမှ၊ ဖုတ်ဖုတ်သဲသဲမပြုကြနှင့်၊သူ
၁၁ သည်အသက်ရှိ၏ဟု ဆို၍တက်ပြန်လေ၏။- မုန့်
ကိုဖဲ့၍ စားကြသည်နှင့်၊ မိုးလင်းသည်တိုင်
အောင် ကြာမြင့် စွာစကားပြောပြီးမှ ထွက်သွား
၁၂ ၏။- အသက် ရှင် လျှက် ရှိသော ထို လုလင်ကို
ဆောင်ယူခဲ့၍အလွန်သက်သာခြင်းရှိကြ၏။
၁၃ ငါတို့သည် ပေါလုအရင်သင်္ဘောသို့ သွား၍၊
အာသုမြို့၌ သူကို ခံယူမည် အကြံနှင့် ထိုမြို့သို့
ထွက်ကြ၏၊ ပေါလုသည် ထိုမြို့သို့ ကုန်း ကြောင်း
၁၄ သွားမည်အကြံရှိ၍၊ထိုသို့စီရင်လေ၏၊-အာသု
မြို့၌သူသည်ငါတို့နှင့်တွေ့မိလျှင်၊ သူကိုခံယူ၍မိ
၁၅ တုသင်မြို့သို့သွားကြ၏။- ထိုမြို့ မှ ထွက်ပြန်လျှင်
နက်ဖန်နေ့၌ ခိတုကျွန်းနားမှာ ရှောက် သွား၍
နောက်တနေ့၌ သာမုကျွန်းသို့ ရောက်သဖြင့်၊ တ
ရောဂုလိ အရပ် စွန်း၌ နေကြ၏၊ နောက် တနေ့ ၌
၁၆ ထည်းမိလက်မြို့သို့ ရောက်ကြ၏။- ပေါလုသည်
ပင်တေကုတ္တေ ပွဲနေ့မလွန်မှီ ယေရု ရှလင် မြို့သို့
ရောက်နိုင်လျှင်ရောက်ခြင်းငှါကြိုးစားသည်ဖြစ်
၍၊အာရှိပြည်၌ကာရှည်စွာမနေလိုသဖြင့်ဧဖက်
မြို့မှာမဆိုက်ဘဲ လွှင့်သွားမည်ဟု၊ မိတ်ပြုစွန်း
လျှက်ရှိနှင့်သတည်း။
၁၇ မိထက်မြို့သို့ရောက်မှပေါလုသည်ဧဖက်မြို့သို့
၁၈ စေလွှတ်၍သင်းအုပ်များကို ခေါ်ငေလေ၏။- သူတို့
သည်ရောက်ကြသောအခါ၊ ပေါလုက၊ငါသည်
အာရှိ ပြည်သို့ ရောက်သော နေ့မှစ၍ ယခုတိုင်
အောင်၊ သင်တို့ရှေ့မှာအထက်သို့ ကျင့်နေသည်
၁၉ ကိုသင်တို့သိကြ၏။- အလွန်နှိမ့်ချသော စိတ်ရှိ

လျှက်၊မျက်ရည်ကျလျှက်၊ယုဒလူတို့၏မကောင်း
သောအကြံအားဖြင့်စုံစမ်းနှောင့်ရှက်ခြင်းကိုခံ
လျှက်၊ သခင် ဘုရား၏ အမှုတော်ကို ငါဆောင်
ရွက်သည်အကြောင်းအရာကိုသင်တို့သိကြ၏။-
၂၀ သင်တို့ အကျိုးပြုစရာတစုံ တခုကိုမျှ ငါမထိမ်မ
ဝှက်၊ လူစုဝေးရာ၌၎င်၊ အိမ်များ၌၎င်၊ သင်တို့
အား ဟောပြော ၍ ဆုံးမ ဩဝါဒ ပေး သ ဖြင့်၊-
၂၁ ဘုရားသခင်ရှေ့တော်၌နောင်တရခြင်းတရားကို
၎င်၊ ငါတို့သခင် ယေရှုခရစ်ကို ယုံကြည် ခြင်း
တရားကို၎င်၊ယုဒလူ၊ဟေလသလူတို့အားသက်
သေခံသည်အကြောင်းအရာကိုသင်တို့သိကြ၏။
၂၂ ယခုမှာ ငါသည်ဝိညာဉ်တော်အားဖြင့် ချည်
နှောင်ခြင်းကိုခံ၍၊ ယေရုရှလင်မြို့သို့ သွားရ၏။
၂၃ ထိုမြို့၌ အဘယ်အမှု ရောက်မည်ကို မသိ။- သို့
သော်လည်း၊ ချည်နှောင်ခြင်း၊ညှဉ်းဆဲနှိပ်စက်
ခြင်းအမှုတို့သည်ငါ့ကို ဆိုင်းလင့်သည်ဟု၊ သန့်
ရှင်းသော ဝိညာဉ်တော်သည် ခပ်သိမ်းသောမြို့
၂၄ တို့၌ ငါ့အား သက်သေခံတော်မူ၏။- သို့ရာတွင်၊
ဘုရားသခင်၏ ကျေးဇူးတော်နှင့် ရှည်သောဧဝံ
ဂေလိ တရားကို သက်သေ ခံ စေခြင်းငှါ၊ သခင်
ယေရှု၏ လက်မှ ငါခံခဲ့ ပြီး သော ဓမ္မ ထရာ အမှု
တည်းဟူသော၊ ငါဆောင်ရွက်ရသော အမှုကို
ဝမ်း မြောက် ခြင်း ပြီး စီး စေမည် အကြောင်း၊ ထို
ညှဉ်းဆဲခြင်း အမှုတစုံတခုကိုမျှ ငါသည် ပမာ
ဏမပြု။ ကိုယ်အသက်ကိုလည်းနှစ်မြောခြင်းမ
၂၅ ရှိ။- ယခုမူကား၊ငါလှည့်လည်၍ ဘုရားသခင်၏
နိုင်ငံ တော်အကြောင်းကို ဟောပြောရာ သင်တို့
ရှိသမျှသည် နောက်တဖန် ငါ့မျက်နှာကို မမြင်ရ
၂၆ ကြဟုငါသိ၏။- ထိုကြောင့်၊ လူ အပေါင်းတို့၏
အသွေးနှင့်ငါကင်းလွတ်သည်ဟု၊ ယနေ့၌သင်
၂၇ တို့အားငါသက်သေခံ၏။- ဘုရားသခင်၏ အလို
တော်ကိုသင်တို့အားအကုန်အစင် ဟောပြောပြ
သခြင်းအမှုကိုငါသည်မလွှဲမရှောင်ဘဲပြုခဲ့ပြီ။
၂၈ ထိုကြောင့်၊ သင်တို့သည် ကိုယ်ကို သတိနှင့်
ကြည့်ရှုကြလော့။ဘုရားသခင်သည်မိမိအသွေး
နှင့်ဝယ်တော်မူသောအသင်းတော်ကိုလုပ်ကျွေး
စေခြင်းငှါ၊ သန့်ရှင်းသော ဝိညာဉ်တော် သည်
သင်တို့ကို အုပ်ချုပ်ခန့်ထားတော်မူသော
သိုးစု တစု လုံးကိုလည်း သတိနှင့် ကြည့်ရှု ကြ
၂၉ လော့။- အကြောင်းမူကား၊ ငါမရှိသည်နောက်၊
ကြမ်းတမ်းသောတောခွေးတို့သည်သိုးများကို
၃၀ မသနားဘဲ သင်တို့ အထဲသို့ ဝင်မည်ကို၎င်၊- တ
ပည့်တော်များကိုသွေးဆောင်ခြင်းငှါ၊မှားသော
စကားကိုပြောတတ်သောလူတို့သည် သင်တို့ထဲ
၃၁ ထဲ၌လည်းပေါ်ထွက်လာမည်ကို၎င်ငါသိ၏။-ထိုကြောင့်၊
စောင့်ရှောက်၍ နေကြ လော့။ ငါ သည် သုံးနှစ်
ပတ်လုံး နေ့ည မပြတ်၊ လူအပေါင်း တို့ကို မျက်
ရည်နှင့်တကွ ဆုံးမ၍နေကြောင်းကို အောက်မေ့
ကြလော့။
၃၂ ညီအစ်ကိုတို့၊ ယခုငါသည် သင်တို့ကိုဘုရား
သခင်၌အပ်နှံ၏။ သင်တို့ကို တည်ဆောက်ခြင်း
ငှါ၎င်၊ သန့်ရှင်း သော သူအပေါင်းတို့နှင့်အတူ
သင် တို့အား အမွေ ပေးခြင်းငှါ ၎င်၊ တတ် နိုင်
သော ဘုရား သ ခင်၏ ကျေး ဇူး တော် တရား ၌
၃၃ ထည်းသင်တို့ကိုငါအပ်နှံ၏။-သူ့ရွှေ၊ငွေ၊အဝတ်
၃၄ တန်ဆာတို့ကိုငါသည်တပ်မက်ခြင်းမရှိပြီ။- ဤ
လက်တို့သည်ငါ့ကို၎င်၊ ငါ့အပေါင်းအဖော်တို့ကို
၎င်၊ လုပ်ကျွေးပြီဟုသင်တို့သည် ကိုယ်တိုင်သိ
၃၅ ကြ၏။- ထိုသို့သင်တို့သည်လည်းအလုပ်လုပ်၍
အားနည်းသောသူတို့ကိုမစရမည်ကို၎င်၊အစွန့်
အကြဲခံခြင်းအရာထက် စွန့်ကြဲခြင်းအရာသည်
သာ၍မင်္ဂလာရှိသည်ဟု၊ သခင်ယေရှုမိန့်တော်
မူသောစကားတော်ကို အောက်မေ့ရမည်ကို၎င်၊
၃၆ အရာရာ၌သင်တို့အားငါပြသပြီဟု၊-ပေါလုဆို
ပြီးလျှင်၊ ဒူးထောက်၍ ထိုသူအပေါင်းတို့နှင့် တ
၃၇ ကွ ဆုတောင်းလေ၏။- ထိုသူအပေါင်း တို့သည်
အလွန် ငိုကြွေး၍၊ ပေါလု၏ လည်ပင်းကို ဖက်
၃၈ ယမ်းလျှက်သုကိုနမ်းကြ၏။- နောက်တဖန်သူ၏
မျက်နှာကိုမမြင်ရဟူသောစကားကြောင့်သာ၍
ကြေကွဲသော စိတ်နှင့် ပေါလုကို သင်္ဘောသို့ နို
လိုက်ကြ၏။

၂၁

၁ ထိုသူများနှင့် ငါတို့သည် ခွာသွား၍ သင်္ဘော
ဖွင့်မှကောသကျွန်းသို့တည့်တည့်သွားသဖြင့်၊
နက်ဖန်နေ့၌ရောဒကျွန်းသို့၎င်၊ ထိုကျွန်းမှပါတ
၂ ရမြို့သို့၎င်ရောက်ကြ၏။-ဖိနိတ်ပြည်သို့ကူးသော
သင်္ဘောကို တွေ့လျှင်၊ ထို သင်္ဘောကို စီး၍ ဖွင့်
၃ ပြန်၏။- ကုပရုကျွန်းကို မြင်လျှင် ထက်ဝါ ထက်
၌ရှောက် သွားသဖြင့်၊ ရှုရိပြည်သို့ကူး၍ တုရုမြို့
၌ဆိုက်လေ၏။ ထိုမြို့မှာသင်္ဘော၌ပါသောဝန်ကို
၄ ချရ၏။- တပည့် တော်တို့ကို တွေ့၍ ငါတို့ သည်
ခုနှစ်ရက်နေကြ၏။ ပေါလုသည် ယေရုရှလင်မြို့
သို့ မတက်ရမည် အကြောင်း၊ ထိုတပည့် တော်
တို့သည်ဝိညာဉ်တော်အားဖြင့်ပြောကြ၏။- ခုနှစ်

ရတ်နေသောအခါ တပည့်တော်အပေါင်းတို့
သည် သားမယားနှင့်တကွ မြို့ပြင်တိုင် ငါတို့ကိုလိုက်
ပို့ကြ၍ ငါတို့သည် ထွက်သွားကြ၏ ။ ပင်
လယ်ကမ်းပေါ်၌ ဒူးထောက်လျက် ဆုတောင်း
၆ ကြ၏။ အချင်းချင်း နှုတ်ဆက်ပြီးမှ ငါတို့သည်
သင်္ဘောပေါ်သို့ တက်၍ ထိုသူတို့သည် မိမိအိမ်သို့
ပြန်ကြ၏။
၇ တုရုမြို့မှ ပတောလမိမြို့သို့ ရောက်လျှင်၊ ပင်
လယ်ခရီးနှင့် လွတ်ကြ၏။ ပတောလမိမြို့၌
ညီအစ်ကိုတို့နှင့် နှုတ်ဆက်၍ တရက်နေပြီးမှ၊–
၈ နက်ဖန်နေ့၌ ထွက်သွားပြန်၍ ကဲသရိမြို့သို့
ရောက်လျှင်၊ ဆရာခုနစ်ပါးအဝင်၊ တရားဟော
၉ ဆရာဖိလိပ္ပု၏အိမ်သို့ဝင်၍ နေကြ၏။– ထိုသူ၌
ပရောဖက်ပြုသော သမီး ကညာလေးယောက်ရှိ
၁၀ ၏– ထိုအိမ်၌ တာရှည်စွာ နေကြပြီးမှ အာဂဗု
အမည်ရှိသောပရောဖက်တယောက်သည် ယုဒ
၁၁ ပြည်မှလာ၍၊– ငါတို့ရှိရာသို့ဝင်သဖြင့်၊ ပေါလု
၏ခါးပန်းကိုယူ၍မိမိ၏ခြေလက်ကိုချည်နှောင်ပြီး
လျှင်၊ ဤခါးပန်းရှင်ကို ယုဒလူတို့သည်ယေရှု
ဆလင်မြို့၌ ချည်နှောင်၍၊ တပါးအမျိုးသားတို့
လက်သို့ အပ်နှံကြလိမ့်မည်ဟု၊ သန့်ရှင်းသော
၁၂ ဝိညာဉ်တော်မိန့်တော်မူသည်ဟု ဆို၏။– ထို
စကားကိုကြားလျှင်၊ ငါတို့နှင့်ထိုအရပ်၌ရှိသော
သူတို့က၊ ယေရုရှလင်မြို့သို့မသွားပါနှင့်ဟုပေါ
၁၃ လုကို တောင်းပန်ကြ၏။– ပေါလုကလည်း၊ အ
ဘယ်ကြောင့်ငိုကြွေးလျက်ငါ၏စိတ်နှလုံးကိုကြေ
ကွဲစေလျက် ပြုကြသနည်း။ သခင်ယေရှု၏နာမ
တော်ကြောင့်ယေရုရှလင်မြို့၌ချည်နှောင်ခြင်းမှ
တပါး၊ အသေသတ်ခြင်းကိုပင်ခံခြင်းငှါငါအထင့်ရှိ
၁၄ သည်ဟု ဆို၏။– ထိုသို့ သွေးဆောင်ခြင်းသို့မ
လိုက်သောအခါငါတို့သည်မနှောင့်ယှက်ဘဲနေ
၍၊ သခင်ဘုရား၏အလိုတော်ရှိသည်အတိုင်းဖြစ်
ပါစေဟု ဆိုကြ၏။
၁၅ ထိုနောက်မှ ငါတို့သည် အသုံးအဆောင်များ
၁၆ ကိုပြင်ဆင်၍ ယေရုရှလင်မြို့သို့သွားကြ၏။– ကဲ
သရိမြို့သား တပည့်တော်အချို့တို့သည် ငါတို့
နှင့်အတူလိုက်ကြ၍၊ ငါတို့ကိုဧည့်ခံမည်သူ၊ မ
နာသုန်အမည်ရှိသော ကုပရုကျွန်းသား၊ အ
သက်ကြီးသောတပည့်တော်ဆီသို့ ပို့ဆောင်ကြ
၁၇ ၏။–ယေရုရှလင်မြို့သို့ရောက်သောအခါ၊ညီအစ်
ကိုတို့သည် ကြည်ညိုသော စိတ်နှင့် ငါတို့ကို
၁၈ လက်ခံကြ၏– နက်ဖန်နေ့၌ ပေါလုသည် ငါတို့
နှင့်တကွ ယာကုပ်ထံသို့ဝင်လျှင်၊ သင်းအုပ်အ
၁၉ ပေါင်းတို့သည်စည်းဝေးကြ၏။–ပေါလုသည်ထို
သူများကိုနှုတ်ဆက်ပြီးလျှင် မိမိသည်အမှုဆောင်
အမှုကိုဆောင်ခြင်းအားဖြင့်ဘုရားသခင်သည်
တပါးအမျိုးသားတို့တွင် ပြုတော်မူသမျှ ထိုကို
တရွာစွာထုတ်ဖော်ပြသလေ၏။
၂၀ ထိုသူတို့သည်ကြားလျှင်၊ ဘုရားသခင်၏ဂုဏ
တော်ကိုချီးမွမ်းကြ၏။ ပေါလုအားလည်း၊ငါတို့
ညီ၊ ယုံကြည်သော ယုဒလူထောင်နှင့်သောင်းများ
သည်ကို သင်သည်သိမြင်၏။ ထိုသူအပေါင်းတို့
သည် ပညတ်တရား၌ စိတ်အားကြီးသော
၂၁ သူဖြစ်ကြ၏။–တပါးအမျိုးသားတို့တွင်နေသော
ယုဒလူအပေါင်းတို့သည်၊ သူငယ်တို့အား အရေ
ဖျားလှီးခြင်းကို မပေးရကြ၊ ရှေး ထုံးတမ်းအ
တိုင်းမကျင့်ရကြဟု သင်သည်ဆိုလျှင်၊ သူတို့
သည်မောရှေတရားကိုစွန့်စေခြင်းငှါဆုံးမကြောင်း
ပေးသတင်းသည်ကို ဤသူတို့သည် သိတင်းကြား
၂၂ ကြပြီ။–သို့ဖြစ်၍၊ အဘယ်သို့ပြုရမည်နည်း။ လူ
အပေါင်းတို့သည် မစုဝေးဘဲ မနေနိုင်ရာ၊ သင်
၂၃ ရောက်ကြောင်းကို ကြားသိကြလိမ့်မည်။– ထို
ကြောင့်၊ အကျွန်ုပ်တို့ဆိုသည့်အတိုင်းပြုပါလော့။
သစ္စာဂတိပြုပြီးသော လူလေးယောက်သည်အ
၂၄ ကျွန်ုပ်တို့တွင် ရှိ၏– ထိုသူတို့ကိုယူ၍ သူတို့နှင့်
တကွ စင်ကြယ်ခြင်းကို ပြုလျှက်၊ သူတို့ခေါင်းရိတ်
ရိတ်ခြင်း၊ စရိတ်ကိုပေးပါလော့။ ထိုသို့ပြုလျှင်
လူအပေါင်းတို့သည် မိမိတို့ကြားသောသိတင်း
စကား မမှန်သည်ကိုငှင်၊ သင်သည် ကိုယ်တိုင်
ပညတ်တရားကိုစောင့်ရှောက်၍ကျင့်နေသည်ကို
၂၅ ငှင်သိရကြလိမ့်မည်။– ယုံကြည်ခြင်းသို့ရောက်
သော တပါးအမျိုးသားတို့မူကား၊ ထိုသို့သော
တရားကိုမကျင့်မစောင့်ဘဲလျှက်၊ ရုပ်တုရှေ့မှာ
ပူဇော်သောယဇ်ကောင်ကိုငှင်၊ အသွေးကိုငှင်၊
လည်ပင်းကိုညှစ်၍ သတ်သော အသားကိုငှင်၊ မ
တရားသော မေထုန်ကိုငှင် ရှောင်စေခြင်းငှါသာ
ငါတို့သည် စီရင်၍ ကြားလိုက်ပြီဟု ဆိုကြ၏။
၂၆ ထိုအခါ ပေါလုသည် ထိုသူတို့ကို ခေါ်၍ နက်
ဖန်နေ့၌သူတို့နှင့်တကွစင်ကြယ်ခြင်းကိုပြုပြီးမှ
ဗိမာန်တော်သို့ဝင်၍ သူတို့အတွက် အသီးသီး
ပြုရပူဇော်သကာ ပြုရသော အချိန်တည်းဟူ
သော၊ စင်ကြယ်ခြင်းကိုပြုရသောနေ့ရက်စေ့မည့်
၂၇ အချိန်ကိုကြားပြောလေ၏။–ထိုခုနစ်ရက်စေ့လု
သောအခါ၊ အာရှပြည်မှ လာသော ယုဒ လူတို့

သည်မိတ်မှန်တော်၌ ပေါလုကိုမြင်လျှင်၊ စုဝေး
သောလူ အပေါင်းတို့ကို ထိုတ်တွန်း နှိုးဆော်၍၊
၂၈ ဣသရေလလူတို့၊ ကူမကြပါ။- ဤသူကား၊ ငါတို့
အမျိုးနှင့်ပညတ်တရားကိုင၊ ဤအရပ်ဌာနကို
ငင်၊ ခပ်သိမ်းသောအရပ်တို့၌ဆန့်ကျင်ဘက်ပြု
၍၊ လူအပေါင်းတို့အား ဆုံးမဩဝါဒပေးသောသူ
ဖြစ်ပါ၏။ ထိုမျှမက၊ ဟေလသလူတို့ကိုမိတ်မှန်
တော်ထဲသို့သွင်း၍၊ ဤသန့်ရှင်းရာဌာနတော်ကို
ညစ်ညူးစေပြီတကားဟု ထိစ်ကြွေး၍ ပေါလုကို
၂၉ ခမ်းဆီးကြ၏။- အလက်ကမြို့ထဲ၌ပေါလုနှင့်အ
တူ တရောဖိမ်အမည် ရှိသော ဧဖက်မြို့သား တ
သောတ်ကို မြင်ကြသည်ဖြစ်၍၊ ထိုသူကိုပေါလု
သည်မိတ်မှန်တော်ထဲသို့သွင်းသည်ဟုထင်မှတ်
၃၀ ၍၏။- တမြို့သုံး ရှုန်းရင်းခတ်မှု ဖြစ်လျှင်၊ လူ
များတို့သည်ပြေးလာ၍စုဝေးကြလျက်၊ ပေါလု
ကိုကိုင်ယူ၍ မိတ်မှန်တော်ပြင်သို့ ဆွဲငင်ပြီးမှတ
ခါးချင်းတံခါးများတို့ကိုပိတ်ထားကြ၏။
၃၁ ပေါလုကိုသတ်မည်ဟုအားထုတ်ကြသောအ
ခါ၊ ယေရုရှလင်မြို့တမြို့လုံးမငြိမ်မသက်ရှုန်းရင်း
ခတ်မှု ဖြစ်သည်ဟု လူတထောင်ကို အုပ်ချုပ်
၃၂ သောစစ်သူကြီးသည် ထိတင်းကြားလျှင်၊- စစ်
သူရဲများနှင့်တပ်မှူးတို့ကိုအလျင်အမြန်ခေါ်၍
ထိုသူတို့ရှိရာသို့ ဆင်းပြေး၏။ ထိုသူတို့သည်စစ်
သူကြီး နှင့် စစ်သူရဲ တို့ကို မြင်လျှင်၊ ပေါလု ကို
၃၃ မရိုက်ဘဲနေကြ၏။- ထိုအခါစစ်သူကြီးသည် အ
နီးသို့ရောက်၍ပေါလုကိုကိုင်ယူပြီးလျှင်၊ သံကြိုး
နှစ်စင်း နှင့် ချည်နှောင်ဟု စီရင်၍၊ ဤ သူ သည် အ
ဘယ်သူနည်း၊ အဘယ်အမှုကို ပြုမိသနည်းဟု
၃၄ မေးစစ်လေ၏။- လူအစုအဝေးထဲ၌အသီးသီးအ
ဖြာဖြာဟစ်ကြော်၍ အသံများသောကြောင့်၊
စစ်သူကြီးသည်အမှန်ကိုမသိနိုင်သဖြင့်၊ ပေါလု
ကို ရဲတိုက်ထဲသို့ ဆောင် သွားစေခြင်းငှါ စီရင်
၃၅ ပြန်လေ၏။- လူ များ တို့သည် ပြင်း ထန် သော
ကြောင့်၊ လှေကားပေါ်သို့ရောက်သောအခါ၊ စစ်
သူရဲတို့သည်ပေါလုကိုချီမြှောက်၍ဆောင်ရကြ၏။-
၃၆ သူကို ထုတ်ပစ်လော့ဟု၊ လူများအပေါင်းတို့သည်
ဟစ်ကြော်လျက်လိုက်ကြ၏။
၃၇ ပေါလုသည်ရဲတိုက်ထဲသို့ ဝင်လုသောအခါ၊
အကျွန်ုပ်သည် ကိုယ်တော်နှင့် စကား ပြောရပါ
မည်လောဟု၊ စစ်သူကြီး အား မေးလျှင် စစ်သူ
ကြီးက၊ သင်သည်ဂြိတ်ဘာသာစကားကိုပြောတတ်
၃၈ သလော၊- သင်သည် ဤထက်ကာလပန်ကန်၍ လူသား

ပြ ထေး ထောင် ထိုကို တော သို့ ခေါ် သွား သော
အဲဂုတ္တု လူဖြစ်သည် မဟုတ် လောဟု မေး၏။-
၃၉ ပေါလု က သည်။ အကျွန်ုပ် သည် ကိလိကိ ပြည်
တာရှုမြို့၌ မွေး ဖွား သော ယုဒ လူဖြစ် ပါ၏။ အ
ကျွန်ုပ်နေသောမြို့ကား၊ သာမည မြို့မဟုတ်။ ဤသူ
တို့အား အကျွန်ုပ်ပြောရသောအခွင့်ကို ပေးပါ။
၄၀ အကျွန်ုပ်ပန်ကြားပါသည်ဟုဆို၏။- စစ်သူကြီး
သည် အခွင့်ပေးသဖြင့်၊ ပေါလုသည် လှေကား
ပေါ်မှာရပ်၍ ထိုလူတို့အား ဒိဒိ လက်နှင့် အမှတ်
ပေးလေ၏။ သူတို့သည်အသွန်တိတ်ဆိတ်စွာနေ
ကြသောအခါ၊ ဟေဗြဲဘာသာအားဖြင့်မြွက်ဆို
လျှက်၊

၂၂

၁ ညီအစ်ကို၊ အဘတို့၊ အကျွန်ုပ်သည် ကိုယ်အ
ပြစ်ခြေရာစကားကိုသင်တို့ရှေ့မှာ ယခုပြောသည်
တွင်နားထောင်ကြပါဟု ဆိုလေသော်၊- ဟေဗြဲ
ဘာသာ အားဖြင့် ပြောသည်ကို ထို သူတို့သည်
ကြားလျှင်သာ၍အသွန်တိတ်ဆိတ်စွာနေကြ၏။
၂ ပေါလုက ထည်။ အကျွန်ုပ်သည်ကိလိကိပြည်
တာရှုမြို့၌ မွေးဖွားသောယုဒလူဖြစ်ပါ၏။ ဤမြို့
မှာထည်။ ဂါမလျေလ အမည်ရှိသော ဆရာ၏
ခြေရင်း၌ ကျွေးမွေးခြင်း ကို ခံ၍ ဘိုးဘေး၏ ဆက်
ကျွင့်သောတရားကိုသေချာစွာသိနားထည်ခြင်း
ငှါနည်းဥပဒေသကိုခံပါပြီ။ သင်တို့ရှိသမျှသည်
ယနေ့ ထိုင်အောင်၊ ဘုရားသခင်ထက်၌ မိတ်အား
ကြီးသည်နည်းတူ၊ အကျွန်ုပ် လည်း မိတ်အား
၄ ကြီးသဖြင့်၊- ယောက်ျားမိန်းမတို့ကို ချည်နှောင်၍
ထောင် ထဲမှာ လှောင် ထား လျက် အသေ သတ်
ခြင်းသို့တိုင်အောင်၊ ထိုတာသာကို ညှဉ်းဆဲပါ
၅ ပြီ။-ထိုကဲ့သို့ပင်ယဇ်ပုရောဟိတ်မင်းမှစ၍လူအ
ကြီးအကဲအပေါင်းတို့သည်အကျွန်ုပ်ထက်၌သက်
သေ ဖြစ် ကြ ပါ ၏။ သူ တို့ ထံမှ ထည်း အကျွန်ုပ်
သည် ညီအစ်ကိုတို့ ထံသို့ မှာစာကိုခံပြီးမှ၊ ဒမာ
သက်မြို့၌ ရှိသော ထိုတာသာဝင် သူတို့ကို ဒဏ်
ခံ စေခြင်းငှါ ချည်နှောင် ၍ ယေရု ရှလင်မြို့သို့ပို့
မည်ဟု၊ ဒမာသက်မြို့သို့အကျွန်ုပ် သွားပါ၏။
၆ ထိစ်း၌ သွား၍ ဒမာသက်မြို့အနီးသို့ ရောက်
သောအခါ၊ မွန်းတည့်အချိန်တွင် ကောင်းကင်
ထဲ က ကြီး သော အ ထင်း သည် အကျွန်ုပ် ပတ်
၇ ထည်၌ ရုတ်ခနဲ ထွန်း တောက်ပါ၏။- အကျွန်ုပ်
သည်မြေပေါ်မှာလဲ၍နေစဉ်၊ ရှောလု၊ ရှောလု၊
အ ဘယ်ကြောင့်ငါကို ညှဉ်းဆဲသနည်း၊ ဟု အ

ကျွန်ုပ်အားပြောသောစကားသံကိုကြားလျှင်၊-
၈ သခင်၊ ကိုယ်တော်သည် အဘယ်သူနည်းဟုအ
ကျွန်ုပ်ပြန်၍ မေးလျှောက်သော်၊ ငါကား၊ သင်
ညှဉ်းဆဲသော နာဇရက်မြို့သား ယေရှုဖြစ်သ
၉ တည်းဟုမိန့်တော်မူ၏။- အကျွန်ုပ်နှင့် ပါသော
သူတို့သည်ထိုအလင်းကိုမြင်၍ကြောက်ရွံ့ခြင်း
သို့ရောက်သော်လည်း၊အကျွန်ုပ်အားပြောသော
၁၀ သူ၏စကားသံကိုမကြားမသိရကြ။-ထိုအခါအ
ကျွန်ုပ်ကလည်း၊သခင်၊အကျွန်ုပ်သည်အဘယ်သို့
ပြုရပါမည်နည်းဟုလျှောက်လျှင်၊ သခင်ဘုရား
က၊ ထလော့၊ ဒမာသက်မြို့သို့ သွားလော့၊ သင်
ဆောင်ရွက် ရသို့ စီရင်ခန့် ထားသမျှတို့ကို ထိုမြို့၌
၁၁ ပြောလိမ့်မည်ဟု မိန့်တော်မူ၏။- ထိုအလင်း၏
ရောင်ခြည် အရှိန်အားဖြင့် အကျွန်ုပ်သည် မျက်
စိကန်းသောကြောင့်၊အကျွန်ုပ်နှင့်ပါသောသူတို့
၏ ထိန်းဆွဲခြင်းကိုခံရ၍ ဒမာသက်မြို့သို့ ရောက်
ပါ၏။
၁၂ ထိုအခါ ပညတ်တရား နှင့် အညီ ဘုရားဝတ်၌
မွေ့လျော်သောသူ ဖြစ်၍၊ ထိုမြို့မှာ နေသောယုဒ
လူ အပေါင်းတို့တွင် အသရေ ရှိသော သူ အာနနိ
၁၃ သည်-အကျွန်ုပ်ဆီသို့လာ၍အနားမှာရပ်လျက်၊
ညီ ရှောလု၊ တဖန် မျက်စိ မြင် ခြင်း သို့ ရောက်
လော့ဟု ဆို၏။ ထိုခဏ၌ အကျွန်ုပ်သည် သူ့ကို
၁၄ ကြည့်ရှု၍မြင်ရ၏။- သူကလည်း၊ သင်သည်မြင်
သောအမှု ကြားသောအမှုတို့ကိုလူ အပေါင်း ထို
၁၅ အား ပြော၍ ထိုသခင်ဘုရား၏ သက်သေခံ ဖြစ်ရ
မည်အကြောင်း၊- သင်သည် ဘုရားသခင်၏အ
လိုတော်ကို သိစေခြင်းငှါ၎င်း၊ဖြောင့်မတ်တော်မူ
သောသူကို မြင်၍ နှုတ်တော် ထွက် ကို ကြားစေ
၁၆ ခြင်းငှါ၎င်း၊ ငါတို့ ဘိုးဘေးများ၏ ဘုရားသခင်
သည် သင့်ကို ခန့်ထားတော်မူ၏။- ယခု ဟုတ်၏။
သင်သည် အဘယ် ကြောင့် ဆိုင်းငံ့၍ နေသ
နည်း။ ထလော့၊ သခင်ဘုရားကိုပဌနာပြုလျက်
နှစ်ခြင်းကိုခံ၍၊ သင်၏အပြစ်များကိုဆေးကြော
လော့ဟု ဆိုပါ၏။
၁၇ ထိုနောက်မှ အကျွန်ုပ်သည် ယေရုရှလင်မြို့သို့
ပြန်၍၊ ဗိမာန်တော်၌ ဆုတောင်းသည်ကာလ ကျ
၁၈ ၍၊ သခင်ဘုရားက သင်သည် ကြိုးစား၍ ယေရု
ရှလင်မြို့မှ အလျင်အမြန် ထွက်သွားလော့။ ငါ၏
အကြောင်း ကို သင် သည် ပြော၍ သက်သေခံ
ခြင်းအရာကို ဤလူတို့သည် မခံဘဲ နေကြလိမ့်
မည်ဟု မိန့် တော် မူလျက် မြင်သည် ကို အကျွန်ုပ်
၁၉ မြင်သော်၏။- အကျွန်ုပ်ကလည်း၊ သခင်၊ ကိုယ်
တော်ကို ယုံကြည်သောသူတို့ကို အကျွန်ုပ်သည်
ထောင်ထဲ၌ လှောင်ထား၍၊ တရား ဇရပ်များ၌
ရိုက်သည် အကြောင်းကို သူတို့ သိ ကြ ပါ၏။-
၂၀ ကိုယ်တော်၏ သက်သေခံဖြစ်သောသတေဖန်၏
အသွေးကို သွန်းသောအခါ အကျွန်ုပ် သည် အ
နား၌ နေလျက်၊ ကွပ်မျက်ခြင်း အမှုကို ဝန်ခံ၍၊
ကွပ်မျက်သောသူတို့၏အဝတ်ကို စောင့်နေပါ၏
၂၁ ဟု- လျှောက် ဆို လျှင်၊ သခင် ဘုရားက၊ သွား
လော့၊ ငါသည်တပါး၊အမျိုးသားတို့ရှိရာသို့သင့်
ကိုဝေးလွှတ်စေတော်မူမည်ဟု၊ အကျွန်ုပ်အားမိန့်
တော်မူသည်ဟုပေါလု မြွက်ဆို၏။
၂၂ ထိုမျှ တိုင်အောင် ပေါလု၏ စကားကို နား
ထောင်ပြီးလျှင်၊ ထိုသူတို့သည်အော်ဟစ်၍၊ ထို
ကဲ့သို့သောသူကို မြေကြီးပြင်မှ သုတ်သင်ပယ်ရှင်း
လော့။ သူသည် အသက်မရှင်သင့်ဟု ဆိုကြ၏။-
၂၃ ထိုသို့အော်ဟစ်ခြင်း၊ကိုယ်အဝတ်ကိုချွတ်ခြင်း၊
မြေမှုန့်ကို မိုဃ်းကောင်းကင်သို့ ပြစ်လိုက်ခြင်း
၂၄ ကို ပြုကြစဉ်တွင်၊- ပေါလုကို အဘယ် ကြောင့်
ထိုသို့ အော်ဟစ်ကြသည်ကို စစ်သူကြီးသည်သိ
လို၍၊ ပေါလုကိုရဲတိုက်ထဲသို့သွင်းစေ၊ ရိုက်၍
၂၅ စစ်ကြောစေဟုစီရင်လေ၏။- သားရေကြိုးနှင့်ဆွဲ
တင် ကြ သော အခါ၊ ပေါလု က၊ ရောမ လူ ဖြစ်
သောသူကို စစ်သတ် အထိုင်းမစီရင်ဘဲ ရိုက်၊
ထင်တို့သည် ရိုက်ရသလောဟု၊ အနား၌ရပ်နေ
၂၆ သော တပ်မှူးအား ဆို၏။- တပ်မှူးသည် ကြား
လျှင်စစ်သူကြီးထံသို့သွား၍၊ အသယ်သို့ပြုမည်
ကိုသတိထားပါလော့။ ဤသူသည် ရောမလူဖြစ်
၂၇ ပါသည်ဟုကြားလျှောက်၏။- စစ်သူကြီးသည်
လည်း၊ ပေါလုထံသို့လာ၍၊ သင်သည်ရောမလူ
မှန်ယလော၊ ငါ့အားပြောလော့ဟု ဆိုလျှင်၊ မှန်
၂၈ ပါသည်ဟု ပေါလုပြော ဆို၏။- စစ်သူကြီးက
လည်း။ အကျွန်ုပ်သည်ငွေ အများကိုပေး၍ရောမ
လူ၏ အရိပ်အရာကို ရသည်ဟု ဆို လျှင်၊ ပေါလု
က၊ အကျွန်ုပ်သည် ဇာတိအားဖြင့် ရပါသည်ဟု
၂၉ ဆို၏။- ထိုအခါစစ်ကြောမည်ပြုသောသူတို့သည်
ပေါလုထံမှ ရှုတ်ချင်းသွား၍၊ သူသည် ရောမလူ
ဖြစ်သည်ကို၎င်း၊ ရောမလူကို ချည်နှောင်မိသည်
ကို ၎င်း၊ စစ် သူ ကြီး၊ သိ လျှင် ကြောက် ခြင်း သို့
ရောက်လေ၏။
၃၀ နက်ဖြန်နေ့တွင် အဘယ်အပြစ်ကို ယုဒလူတို့
သည်ပေါလု၌ တင်ကြသည်ကို စစ်သူကြီးသည်

အမှန် ဆိထိုသော့ကြောင့်၊ ပေါလုနှင့် ချည်နှောင်
သောသံကြိုးကိုဖွတ်၍၊ယဇ်ပရောဟိတ်အကြီး
တို့နှင့် လွှတ်အရာရှိအပေါင်းတို့ကို စည်းဝေးစေ
ခြင်းငှါစီရင်ပြီးလျှင်၊ ပေါလုကိုခေါ်၍သူတို့ရှေ့
၌ထားလေ၏။

## ၂၈

၁ ပေါလုသည် လွှတ်အရာရှိတို့ကို စေ့စေ့ ကြည့်
ရှု၍၊ ညီအစ်ကိုတို့၊ အကျွန်ုပ်သည် ယနေ့ တိုင်
အောင်ဘုရားဝတ်ကိုပြုခြင်းအမှုမှာ၊ ကိုယ်စိတ်
နှစ်လုံးသည် ကိုယ်၌အပြစ်တင်ခွင့်နှင့်ကင်းလွတ်
၂ လျက်ပြုပါသည်ဟုပြောဆိုသော်၊- ယဇ်ပရော
ဟိတ်မင်းအာနနိက၊သူ၏နှုတ်ကိုရိုက်လော့ဟု၊
၃ အနား၌ရပ်နေသောသူတို့အား အမိန့်ရှိ၏၊- ထို
အခါပေါလုက၊အဖြူသုတ်သောအုတ်ရိုး၊ ဘုရား
သခင်သည်သင့်ကိုရိုက်တော်မူမည်။ သင်သည်
အကျွန်ုပ်ကိုတရားနှင့်အညီစီရင်ခြင်းငှါ ထိုင်နေ
လျက်ပင်၊သူကိုရိုက်လော့ဟု၊ မတရားသဖြင့်စီ
၄ ရင်ရမည်လောဟုဆို၏၊- အနား၌ ရပ်နေသော
သူတို့ကလည်း၊ သင်သည် ဘုရားသခင်၏ ယဇ်
၅ ပရောဟိတ်မင်းကိုဆဲသလောဟုမေးလျှင်၊-ပေါ
လုက၊ ညီအစ်ကိုတို့၊ သူသည် ယဇ်ပရောဟိတ်
မင်းဖြစ်သည်ကိုအကျွန်ုပ်မသိ။ သင်၏အမျိုးကို
အုပ်စိုးသောမင်းကိုသင်သည်မကဲ့ရဲ့ရဟုကျမ်း
စာ၌ထားသည်ဟုဆို၏။
၆ ထိုအရာရှိတို့တွင် အချို့တို့သည် ဇဒ္ဒုကဲဖြစ်
ကြသည်၊ အချို့တို့သည်ဖာရိရှဲ ဖြစ်ကြသည်ကို
ပေါလုသိမြင်လျှင်၊ညီအစ်ကိုတို့၊ အကျွန်ုပ်သည်
ဖာရိရှဲဖြစ်၏။ ဖာရိရှဲ၏သားလည်းဖြစ်၏။ သေ
သောသူတို့သည် ထမြောက်မည်ဟု မျှော်ထင့်
ခြင်းအကြောင်းကြောင့်၊ အကျွန်ုပ်သည် စစ်
ကြောစီရင်ခြင်းကိုခံရ၏ဟု၊ လွှတ်တော်ပေါ်မှာ
၇ ကျွေးကြော်လေ၏၊- ထိုအခါဖာရိရှဲတို့နှင့်ဇဒ္ဒု
ကဲတို့သည်အချင်းချင်းငြင်းခုံ၍ အစုအဝေးသည်
၈ ကွဲပြားခြင်းသို့ရောက်လေ၏၊- ကွဲပြားသည်အ
ကြောင်းကား၊ ဇဒ္ဒုကဲတို့က၊ ထမြောက်ခြင်း မ
ရှိ၊ ကောင်းကင်တမန်မရှိ၊ နံဗိညဉ်မရှိဟုယူကြ
၏။ဖာရိရှဲတို့က၊နှစ်ပါးစလုံးရှိသည်ဟုဝန်ခံကြ
၉ ၏၊- အော်ဟစ်သံများ၍၊ ဖာရိရှဲတို့ဘက်၌ နေ
သောကျမ်းဆရာတို့သည် ထလျက်ငြင်းခုံငြင်း
ခုံ၍၊ ဤသူ၌ အဘယ်အပြစ်ကိုမျှငါတို့မတွေ့။ နံ
ဗိညဉ်သော်၎င်၊ ကောင်းကင်တမန် သော်၎င်
သူကိုပြောလျှင်၊ဘုရားသခင်၏အာဏာတော်ကို
၁၀ မဆန့်ကြ . . . ဟု ဆိုကြ၏၊- အမှုအခင်း ငြင်းခုံ
ခြင်းများလေ . . . အခါ၊ထိုသူတို့သည်ပေါလုကိုဆွဲ
ငင်၍ အပိုင်းပိုင်းဆုတ်ဖြတ်မည်ကို စစ်သူကြီး
စိုးရိမ်သော့ကြောင့်၊စစ်သူရဲများ၊ဆင်း၍ပေါ
လုကိုအရာရှိမင်းတို့အထဲမှ အနိုင်အထက်ယူ၍
ရဲတိုက်ထဲသို့ပို့ဆောင်ကြဟုအမိန့်ရှိ၏။
၁၁ နက်ဖန်နေ့ညဉ့်တွင်သခင်ဘုရားသည်ပေါလု
အနား၌ပေါ်ထွန်းတော်မူလျက်၊ ပေါလု၊မစိုးရိမ်
နှင့်၊ငါ၏အကြောင်းအရာကို သင်သည်ယေရုရှ
လင်မြို့၌သက်သေခံပြီးသည်နည်းတူ၊ ရောမမြို့
၌လည်းခံရဦးမည်ဟုမိန့်တော်မူ၏။
၁၂ မိုးလင်းသောအခါ ယုဒလူတို့သည် သင်း
ဖွဲ့၍၊ ငါတို့သည်ပေါလုကိုမသတ်မှီတိုင်အောင်
အလျှင်းမစားမသောက်ရဟု၊ ကိုယ်ကိုကျိန်ဆို
၁၃ ၍ မိဿန်ပြုကြ၏၊- ထိုသို့ သင်းဖွဲ့သော သူတို့
၁၄ သည် လေးကျိပ် မက ရှိကြ၏၊- ထို သူတို့သည်
ယဇ်ပရောဟိတ်အကြီးတို့နှင့်လူအကြီးအကဲတို့
ထံသို့ သွား၍၊ အကျွန်ုပ် တို့သည် ပေါလုကို မ
သတ်မှီတိုင်အောင် အလျှင်း မစား မသောက်ရ
၁၅ ဟု၊ ကိုယ်ကိုကျိန်ဆို၍ မိဿန်ပြုကြပါပြီ။- ထို
ကြောင့်၊ နက်ဖန်နေ့၌စစ်သူကြီးသည် ပေါလုကို
ကိုယ်တော်တို့ထံသို့ ပို့ဆောင်စေခြင်းငှါ၊ သူကို
သာ၍စေ့စေ့စစ်ကြောမည်အဟန်ပြု၍၊ လွှတ်အ
ရာရှိများနှင့်အတူ ကိုယ်တော် တို့သည် စစ်သူ
ကြီးကိုလျှောက်ကြပါလော့။ ပေါလုသည်ကိုယ်
တော်တို့ထံသို့မရောက်မှီအကြားတွင်၊အကျွန်ုပ်
တို့သည်သူကိုသတ်ခြင်းငှါ အသင့်ရှိနှင့်ပါပြီဟု
လျှောက်ကြ၏။
၁၆ ထိုသို့လမ်းနား၌ ချောင်း၍ နေကြသည် အမှု
ကိုပေါလု၏တူသည် ကြားလျှင်၊ ရဲတိုက်ထဲသို့
၁၇ ဝင်၍ ပေါလုအား ကြားပြော လေ၏၊- ပေါလု
သည်တပ်မှူးတယောက်ကိုခေါ်၍၊ဤလုလင်ကို
စစ်သူကြီးထံသို့ ပို့ပါ။ လျှောက်စရာ တစုံတခုရှိ
၁၈ သည်ဟု ဆိုသော်၊- တပ်မှူးသည် လုလင်ကိုစစ်
သူကြီးထံသို့ပို့ပြီးလျှင်၊ အကျဉ်းခံရသောပေါ
လုသည် အကျွန်ုပ်ကို ခေါ်၍၊ ကိုယ်တော်အား
လျှောက် စရာ တစုံ တခု ရှိသော ဤ လု လင် ကို
ကိုယ်တော်ထံသို့ ပို့ စေခြင်း ငှါ တောင်းပန်ပါ
၁၉ သည်ဟုလျှောက်၏၊-စစ်သူကြီးသည်လုလင်ကို
လက် ဆွဲ၍ ဆိတ်ကွယ် ရာ အရပ် သို့ သွား ပြီး
လျှင်၊ သင်သည်အဘယ်အကြောင်းကို အစား
၂၀ လျှောက်ချင်သနည်းဟုမေးမြန်းလေ၏၊-လုလင်

ကသည်း၊ ကိုယ်တော်သည်နက်ဖန်နေ့၌ပေါလု
ကိုလွှတ်တော်သို့ ပို့ဆောင်စေခြင်းငှါ၊ ယုဒလူတို့
သည်သူကိုသာ၍စေ့စေ့မေးမြန်းမည်အဟန်ပြု
၍၊ ကိုယ်တော်ကိုတောင်းလျှောက်မည်ဟုတိုင်
၂၁ ပင်ညှိနှုတ်ကြပါပြီ။- သို့ရာတွင်၊ သူတို့၏အလို
သို့မလိုက်ပါနှင့်။ ပေါလုကိုမသတ်မှီတိုင်အောင်
အလျှင်းမစားမသောက်ရဟုကိုယ်ကိုကျိန်ဆို၍
မိဿာန်ပြုသော ယုဒလူလေးကျိပ်မက၊ လမ်းနား
၌ပေါလုကို ချောင်း၍နေကြပါ၏။ ယခုပင်ကိုယ်
တော် ဝန်ခံမည် စကားကို ထိုသူတို့သည် ဆိုင်း
လင့်၍အသင့်ရှိနှင့်ပါပြီဟုလျှောက်လေ၏။
၂၂ စစ်သူကြီးကလည်း၊ သင်သည် ငါအား ဤသို့
ကြား လျှောက် သည်ကို အဘယ် သူ အားမျှ မ
ပြောနှင့်ဟု၊ ထိုလုလင်ကိုမှာထား၍လွှတ်လိုက်
၂၃ ပြီးလျှင်၊- တပ်မှူးနှစ်ယောက်တို့ကိုခေါ်၍၊ ယ
နေ့ညည့်သုံးချက်တီးအချိန်၌ ကဲသရိမြို့သို့သွား
စေခြင်းငှါ စစ်သူရဲနှစ်ရာ၊ မြင်းစီးသူရဲခုနစ်ကျိပ်၊
၂၄ လှံကိုင်သူရဲနှစ်ရာတို့ကို ပြင်ဆင်ကြ။- ပေါလုစီး
စရာအို့ တိရိစ္ဆာန်တို့ကိုပြင်၍ ပေးကြ။ သူကိုဖေ
၂၅ လဇ်မင်းထံသို့ကြပ်မ၍ပို့ကြဟုအမိန့်ရှိ၏။- စစ်
သူကြီးသည်ရေး၍ပေးလိုက်သောစာဟူမူကား၊-
၂၆ ကလောဒိလုသိက၊ မြတ်တော်မူသောမြို့ဝန်မင်း
ဖေလဇ်ကို မေတ္တာနှင့် ကြားလျှောက် လိုက် ပါ
၂၇ သည်။- ယုဒလူတို့သည်ဤသူကိုဖမ်းဆီး၍သတ်
မည်ပြုကြစဉ်၊ သူသည်ရောမလူဖြစ်ကြောင်းကို
အကျွန်ုပ်သည် ကြားသိ သဖြင့်၊ စစ်သူရဲတို့နှင့်
၂၈ တကွ သွား၍ သူကို နှုတ် ပါ သည်။- ယုဒ လူတို့
သည်အဘယ်အပြစ်ကြောင့်သူနှင့်အမှုလုပ်ကြ
သည်ကို အကျွန်ုပ်သိလိုသောကြောင့်၊ သူကိုယူ
၂၉ ၍လွှတ်တော်သို့ ဆောင်သွားပြီးလျှင်၊- အသေ
သတ်ခြင်း၊ အကျဉ်းထားခြင်းကိုခံထိုက်သော
အပြစ်ကြောင့် အမှုလုပ်ကြသည်မဟုတ်ဘဲ၊ သူ
တို့ တရား နှင့် စပ်ဆိုင် သော ပုစ္ဆာ အမေးကို အ
ကြောင်းပြု၍သာအမှုလုပ်ကြသည်ကိုအကျွန်ုပ်
၃၀ သိမြင်ပါ၏။- ယုဒလူတို့သည်မကောင်းသောအ
ကြံ နှင့်သူကိုလုပ်ကြံမည်ဟုအကျွန်ုပ်ရိပ်မိလျှင်၊
သူကိုကိုယ်တော်ထံသို့ ချက်ချင်းစေလွှတ်၍အမှု
လုပ်သောသူတို့ကိုရှေ့တော်၌ လျှောက်ထားစေ
ခြင်းငှါ စီရင်ပါ၏။ ကိုယ် တော် ကျန်းမာ ပါစေ
သောဟုရေး၍ပေးလိုက်သတည်း။
၃၁ စစ်သူကြီး မှာထားသည် အတိုင်း စစ်သူရဲ တို့
သည်ပေါလုကိုယူ၍၊ ညည့်အခါ အန္တိပတြိမြို့
၃၂ သို့ပို့လိုက်ပြီးမှ၊- နက်ဖန်နေ့၌မြင်းစီးသူရဲ တို့ကို
ပေါလုနှင့်တကွသွားစေခြင်းငှါလွှတ်လိုက်၍မိမိ
၃၃ တို့သည် ရဲတိုက်သို့ပြန်ကြ၏။- မြင်းစီးသူရဲတို့
သည်ကဲသရိမြို့သို့ ရောက်လျှင်၊ စစ်သူကြီး၏ စာ
ကို မြို့ဝန်မင်း လက် သို့ အပ် ပေး၍၊ ပေါလု ကို
၃၄ လည်းရှေ့တော်၌ သွင်းထားကြ၏။- မြို့ဝန်မင်း
သည် စာကို ဖတ် ပြီးမှ၊ အ ဘယ် ပြည်နှင့် ဆိုင်သ
နည်းဟုမေး၍၊ ကိလိကိပြည်သားဖြစ်သည်ကို
၃၅ ကြားသိ လျှင်၊- သင့်ကို အမှု လုပ်သော သူတို့
သည် ရောက်လာသောအခါ ငါနားထောင်မည်
ဟုဆို၍၊ ပေါလုသည်ဟေရုဒ်မင်း၏အိမ်တော်၌
အချုပ်ခံလျက်နေစေဟုစီရင်လေ၏။

၂၄

၁ ထို နောက် ငါး ရက် လွန် သော အ ခါ၊ ယဇ်
ပုရောဟိတ် မင်း အာနနိ သည် တေရတုလု အ
မည်ရှိသော ရှေ့နေမှစ၍၊ လူအကြီးအကဲတို့နှင့်
တကွ ကဲသရိမြို့သို့သွားကြသဖြင့်၊ ပေါလု၏ အ
ကြောင်းကိုမြို့ဝန်မင်းထံ၌လျှောက်ထားကြ၏။-
၂ ပေါလုကို ခေါ်ပြီးမှ၊ တေရတုလု သည် အပြစ်
တင်သောစကားကို လျှောက်ဆိုသည်မှာ၊ မြတ်
တော်မူသော ဖေလဇ်မင်း၊ အကျွန်ုပ် တို့သည်
ဘုန်းတော်ကို မှီလျှံ၍အလွန်ငြိမ်သက်စွာ နေရ
သဖြင့်၊ ကိုယ်တော် ကြည့်ရှု ပြုစုတော် မူခြင်း
ကျေးဇူးတော်ကို ဤလူမျိုးသည် ခံရပါသည်ဖြစ်
၃ ၍၊- အရပ်ရပ်တို့၌ အကျွန်ုပ်တို့သည် အစဉ်မ
ပြတ်ကျေးဇူးတော်ကိုအလွန်သိတတ်သောစိတ်
၄ နှင့်ခံရပါ၏။- အကျွန်ုပ် သည် ကိုယ် တော် ကို
ကြာမြင့်စွာနှောင့်ရှက်ခြင်းအပြစ်နှင့်လွတ်ခြင်း
ငှါ၊ အကျဉ်းအားဖြင့် လျှောက်သောစကားကို
ကြည်းညွှင်းသောစိတ်တော်နှင့်နားထောင်တော်
၅ မူမည်အကြောင်းအသနားတော်ခံပါ၏။- နာဇ
ရက်ဂိုဏ်းသားဝင်သူတို့တွင် အကြီးလုပ်၍ အရပ်
ရပ်တို့၌ ယုဒလူအပေါင်းတို့ကို ထစေခြင်းငှါ နှိုး
ဆော်သော ဤလူဆိုးကို အကျွန်ုပ်တို့သည် တွေ့
၆ ကြပါပြီ။- သူသည်ဗိမာန်တော်ကိုရှုတ်ချခြင်း
ငှါပြုပါပြီ။ အကျွန်ုပ်တို့သည်သူကိုဖမ်းဆီး၍၊ အ
ကျွန်ုပ်တို့တရားအတိုင်းစီရင်ခြင်းငှါ အလိုရှိကြ
၇ သည်တွင်၊- စစ်သူကြီးလုသိသည် စစ်သူရဲ များ
၈ နှင့်လာ၍ အကျွန်ုပ်တို့လက်မှနှုတ်ပြီးလျှင်၊- အ
မှုလုပ်သော သူတို့ကို ကိုယ်တော်ထံသို့သွားစေ
မည်အကြောင်းစီရင်ပါ၏။ ဤသူကိုကိုယ်တော်
တိုင် စစ်တော် မူ လျှင်၊ အကျွန်ုပ် တို့ အပြစ်တင်

သော အကြောင်းအရာများကို သေချာစွာ သိ
၉ နိုင်တော်မူမည်ဟုလျှောက်ထား၏။- ယုဒလူတို့
ကလည်း၊ ဤစကားမှန်ပါသည်ဟုဝန်ခံကြ၏။
၁၀ မြို့ဝန်မင်းသည် အမှတ်ပေး၍၊ ပေါလု သည်
လျှောက် ရသော အခွင့်ကို ရလျှင်၊ ကိုယ်တော်
သည် ဤလူမျိုးကို တာရှည်စွာ အုပ်စိုးတော်မူ
သည်ကို အကျွန်ုပ်သိ၍၊ သာယာသောစိတ်နှင့်
ကိုယ်အပြစ် ဖြေရာစကားကို လျှောက်ပံ့ပါ၏။-
၁၁ အကျွန်ုပ်သည်ကိုးကွယ်ခြင်းငှါယေရုရှလင်မြို့
သို့ တက် သွား၍၊ ယခု တဆယ့် နှစ်ရက် သာ ရှိ
၁၂ သည်ကို ကိုယ်တော်သိနိုင်တော်မူ၏။- ဗိမာန်
တော်၌ တစုံတ ယောက် သော သူနှင့် အကျွန်ုပ်
ဆွေးနွေးငြင်းခုံ သည် ကို သူ တို့ မ တွေ့ ကြ ပါ။
တရားစရပ်တို့၌၎င်း၊မြို့ထဲ၌၎င်း၊လူများကိုမငြိမ်
မသက်စေခြင်းငှါအကျွန်ုပ်နှိုးဆော်သည်ကိုသူတို့
၁၃ မတွေ့ကြပါ။- ယခုတွင်အကျွန်ုပ်ကို အပြစ်တင်
၁၄ သောအမှု၌သက်သေမပြနိုင်ကြပါ။- သို့သော်
လည်း၊ မိစ္ဆာအယူဟူ၍သူတို့ခေါ်တတ်သောတာ
သာအတိုင်း အကျွန်ုပ်သည် မိမည်ဖဆက် ကိုး
ကွယ်သော ဘုရားသခင်ကို ကိုးကွယ် သည်ဟု၊
ရှေ့တော်၌ အကျွန်ုပ် ဝန်ခံပါ၏။ ပညတ်ကျမ်း၊
အနာဂတ္တိကျမ်းတို့၌ စီရင်ရေးထား သမျှတို့ကို
၁၅ အကျွန်ုပ်ယုံပါ၏။-ဖြောင့်မတ်သောသူ၊မဖြောင့်
မတ် သော သူ ရှိ သ မျှ တို့ သည် သေ ခြင်း မှ ထ
မြောက်ကြလိမ့်မည်ဟူ၍ သူတို့မျှော်လင့်သည်
နည်းတူ၊အကျွန်ုပ်လည်းဘုရားသခင်ကို အမှီပြု
၁၆ ၍မျှော်လင့်ပါ၏။- ထိုကြောင့်၊ ဘုရားသခင်ကို
ပြစ်မှားပြီ၊ လူတို့ကိုပြစ်မှားပြီဟု ကိုယ်စိတ်နှစ်
လုံးသည်ကိုယ်၌အပြစ်တင် ခွင့်နှင့်အစည်ကင်း
လွတ်မည်အကြောင်း၊ အကျွန်ုပ်သည် ကြိုးစား
အားထုတ်ပါ၏။
၁၇ နှစ်ပေါင်းများစွာလွန်သောအခါ၊အမျိုးသား
ချင်းတို့အား စွန့်ကြဲပေးကမ်းခြင်းအမှု၊ ဘုရား
သခင် အား ပူဇော် သ ကာ ပြုခြင်း အမှု နှင့် အ
၁၈ ကျွန်ုပ် ရောက်လာသည်တွင်၊- ဗိမာန်တော်၌
လူအစုအဝေး မရှိ၊ ရုန်းရင်း ခတ်မှု မပြုဘဲ၊ စင်
ကြယ်ခြင်းကိုပြုလျက်ရှိသည်ကို၊အာရှပြည်က
၁၉ လာသောယုဒလူအချို့တို့သည်တွေ့ကြပါ၏။-ထို
သူတို့သည်အကျွန်ုပ်၌အပြစ်တင်စရာရှိလျှင်၊ အ
ထံတော်သို့ ကိုယ်တိုင်လာ၍ အပြစ်တင်အပ်ပါ
၂၀ ၏။- သို့မဟုတ်၊ အကျွန်ုပ်သည်လွှတ်အရာရှိတို့
ရှေ့မှာ ရှိသောအခါ၊ သေသော သူတို့သည် ထ
၂၁ မြောက်ခြင်းအကြောင်း နှင့်၊- အကျွန်ုပ် သည
သင်တို့ရှေ့၌ ယနေ့ စစ်ကြော စီရင်ခြင်းကိုခံရ၏
ဟု၊ ကျွေးကြော်သော စကားသီတခွန်းကို ထား
လျှင်၊အကျွန်ုပ်၌အဘယ်အပြစ်ကိုတွေ့ကြသည်
ကို ယခုရှိသော ဤသူတို့သည် ပြောကြပါစေဟု
ပေါလုလျှောက်၏။
၂၂ ဖေလဇ်မင်းကလည်း၊ စစ်သူကြီးလုသိရောက်
လာသောအခါ၊သင်တို့အမှုကိုငါစစ်ဦးမည်ဟု၊
ထို တာ သာ ကို သာ၍ နားလည် သော သူ ဖြစ်
၂၃ လျက်၊မစီရင်ဘဲသူတို့ကိုလွှတ်လိုက်၏။- ပေါလု
ကိုအကျဉ်းမထားဘဲစောင့်၍နေစေ။သူ၏အဆွေ
အမျိုးတို့သည် သုထံ သို့ လာ၍ လုပ်ကျွေးကြစေ
ဟုတပ်မှူးကိုမှာထား၏။
၂၄ ထိုနောက်များမကြာ၊ဖေလဇ်မင်းသည်ယုဒ
အမျိုးဖြစ်သော မိမိ ခင်ပွန်း ဒြုသိလေနှင့် တကွ
လာပြီးလျှင်၊ ပေါလုကိုခေါ်၍ခရစ်တော်ကို ယုံ
ကြည် ခြင်းနှင့် ဆိုင်သော စကားကို နားထောင်
၂၅ လေ၏။- ပေါလုသည်ဖြောင့်မတ်ခြင်းတရားနှင့်
ကာမဂုဏ် ချုပ်တည်းခြင်းတရားကို၎င်း၊နောက်
ဖြစ်လတံ့သော စစ်ကြော စီရင်ခြင်းကို၎င်း ဟော
ပြောလျှင်၊ဖေလဇ်မင်းသည်ကြောက်လန့်ခြင်း
သို့ရောက်၍၊ ယခု သွားဦး၊လော့၊ နောက်မှ အ
ဆင်သင့် သောအခါ ငါခေါ်ဦး မည်ဟု ဆို၏။-
၂၆ ပေါလုသည် မိမိလွတ်ရဖော့ခြင်း ငွေပေးမည်ဟု
ထိုမင်းသည်ထင်မှတ်လျက်၊မကြာမကြာပေါလု
၂၇ ကိုခေါ်၍သူနှင့်စကားပြောလေ၏။- နှစ်နှစ်လွန်
သောအခါ ပေါကိ ဖေတ္တု သည် ဖေလဇ်မင်း၏
အရာကိုရသဖြင့်၊ ဖေလဇ်မင်းသည် ယုဒလူတို့
အား ကျေးဇူးပြုလိုသောစိတ်နှင့် ပေါလုကို အ
ကျဉ်းထားရစ်စေ၏။

## ၂၅

၁ ဖေတ္တုမင်းသည်ထိုပြည်သို့ရောက်၍သုံးရက်
ရှိ သော အခါ၊ ကဲသရိ မြို့မှ ယေရု ရှလင် မြို့သို့
၂ တက်သွား၏။- ထိုအခါ ယဇ်ပုရောဟိတ် မင်း
၃ မှစ၍ ယုဒ လူအကြီး အကဲ တို့သည်၊ ပေါလုကို
သတ်ခြင်းငှါလမ်းနား၌ချောင်း၍ နေမည်ဟုအ
ကြံ ရှိသည် နှင့်၊ ပေါလု၏ အကြောင်းကို ကြား
လျှောက်တောင်းပန်၍၊သူကိုယေရုရှလင်မြို့သို့
စေလွှတ်တော်မူမည်အကြောင်းအသနားတော်
၄ ခံကြ၏။- ဖေတ္တုမင်းကလည်း၊ပေါလုသည်ကဲ
သရိမြို့၌ အချုပ်ခံလျက်နေရ၏။ ထိုမြို့သို့ငါသမ
၅ ကြာခင်ကိုယ်တိုင်သွားမည်။- သင်တို့သည်တတ်

နိုင်သောသူတို့သည်ငါနှင့်အတူလိုက်၍၊ ထိုသူ
၌အပြစ်ရှိလျှင် အပြစ်တင်ကြစေဟုပြောဆို၏။-
၆ ထိုနောက်ဆယ်ရက်သောက်ရှေ့ပြီးမှကဲသရိမြို့
သို့သွား၍၊ နက်ဖြန်နေ့၌ တရားပလ္လင်ပေါ်မှာ
ထိုင်လျက်၊ပေါလုကိုခေါ်ခဲ့ဟု အမိန့်ရှိ၏။
၇ ပေါလုရောက်သော အခါ၊ ယေရုရှလင်မြို့မှ
လာသော ယုဒလူတို့သည် ဝန်းရံလျက်၊ သက်
သေ မပြနိုင်သဲ လေးလွာ သော အပြစ်များ တို့ကို
၈ ပေါလုအပေါ်၌တင်ကြ၏။-ပေါလုကလည်း၊အ
ကျွန်ုပ်သည်ယုဒတရားကိုမပြစ်မှားပါ။ ဗိမာန်
တော်ကိုမပြစ်မှားပါ၊ ကဲသာဘုရင်ကိုမပြစ်မှား
၉ ပါဟူ၍အပြစ်ဖြေရာစကားကိုပြောလေ၏။- သို့
သော်လည်း၊ဖေတ္တုမင်းက၊ သင်သည်ယေရုရှ
လင်မြို့သို့သွား၍၊ငါ့ရှေ့မှာဤအမှုစီရင်ခြင်းကိုခံ
မည်လောဟု၊ ယုဒလူတို့ကို ကျေးဇူးပြုလိုသော
၁၀ စိတ်ရှိလျက် ပေါလုအား မေး၏။- ပေါလုက
လည်း၊ ကဲသာဘုရင်၏ တရားပလ္လင်ရှေ့မှာ အ
ကျွန်ုပ်ရပ်ပါ၏၊ ထိုပလ္လင်ရှေ့မှာ အကျွန်ုပ်အမှု
ကို စီရင်အပ်ပါ၏၊ ကိုယ်တော်သည် အမှန် သိ
တော်မူသည်အတိုင်း၊အကျွန်ုပ်သည်ယုဒလူတို့
၁၁ ကိုအလျှင်း မပြစ်မှားပါ။- အကျွန်ုပ် ပြစ်မှား၍
သေထိုက်သောအပြစ်ကိုပြုမိသည်မှန်လျှင်၊သေ
ဘေးကိုအကျွန်ုပ်မရှောင်ပါ၊ထိုသူတို့တင်သော
အပြစ်တစုံတခုမျှမမှန်လျှင်၊ သူတို့ထံသို့ အ
ကျွန်ုပ်ကိုအဘယ်သူမျှမဆွန်မအပ်ရပါ။ ကဲသာ
ဘုရင်၏ အယူတော်ကို ခံပါမည်ဟုလျှောက်ဆို
၁၂ ၏။- ထိုအခါ ဖေတ္တုမင်းသည် တိုင်ပင်ဖက်တို့
နှင့် တိုင်ပင်ပြီးလျှင်၊ သင်သည် ကဲသာဘုရင်၏
အယူတော်ကို ခံပါမည်ဟု ဆိုသလော၊ ကဲသာ
ဘုရင်ထံတော်သို့သွားရမည်ဟုဆို၏
၁၃ ထို နောက် ရက်များမကြာ၊ အဂြိပ္ပ မင်းကြီး သည်
ဗေရနိတ်နှင့်တကွ ဖေတ္တု မင်းကို
နှုတ်ဆက်ခြင်းငှါ ကဲသရိ မြို့သို့ ရောက်လာ၏။-
၁၄ အင်တန်ကာလနေပြီးမှဖေတ္တုမင်းသည်ပေါလု
၏အကြောင်းကို မင်းကြီးအား ကြားပြောသည်
မှာ၊ဖေလိက်မင်းထံ၌ အကျဉ်းထားရစ်သော
၁၅ လူတယောက် ရှိ၏။- ယေရုရှလင်မြို့၌ ကျွန်ုပ်ရှိ
သောအခါ၊ ယဇ်ပုရောဟိတ်အကြီးတို့နှင့် ယုဒ
အမျိုးအကြီးအကဲတို့သည်၊ထိုသူ၏အကြောင်း
ကို ကြားလျှောက်၍ အပြစ်အလျှောက် စီရင်ပါ
၁၆ ဟုတောင်းပန်ကြလျှင်၊ ကျွန်ုပ်ကလည်း၊ အပြစ်
တင်ခြင်းကို ခံသော သူသည် အပြစ် တင်သော
သူတို့နှင့် မျက်မှောက်တွေ့၍၊ မိမိ၌တင်သောအ
ပြစ်ကို ဖြေရသော အခွင့်မရှိမှီ၊ အဘယ်သူကိုမျှ
အသေခံစေခြင်းငှါ မဆွန်မအပ်ရဟု ရောမထုံးစံ
၁၇ ရှိကြောင်းကို ပြောဆို၏။- ထိုသူတို့သည် ဤမြို့
သို့ရောက်လာသောအခါ၊ ကျွန်ုပ်သည် စဆိုင်း
မထင့်ဘဲ နက်ဖြန်နေ့၌ တရားပလ္လင်ပေါ်မှာ ထိုင်
၁၈ ၍ထိုသူကိုခေါ်စေ၏။-သူတို့အမှုလုပ်သောသူတို့
သည် လာကြလျှင်၊ ကျွန်ုပ်အထင်က ထင်မှတ်
သော အပြစ်တစုံတခုကိုမျှ မတင်ဘဲလျက်၊ မိမိ
၁၉ တို့သာသနာနှင့်၎င်း၊ယေရှုအမည်ရှိသော၊- သေပြီး
သော သူတယောက်နှင့်၎င်း၊ဆိုင်သော ဝိဝါဒအ
မေးကိုအကြောင်းပြု၍အပြစ်တင်ကြ၏။ ထိုယေ
ရှုသည် အသက်ရှင်လျက် ရှိသည်ဟု ပေါလု ဆို
၂၀ တတ်၏။-ထိုဝိဝါဒအမေးကိုကျွန်ုပ်သည်မကျွမ်း
သေသောကြောင့်၊ ပေါလု အားလည်း၊ သင် သည်
ယေရုရှလင် မြို့သို့သွား၍ ဤအမှု စီရင်ခြင်းကိုခံ
၂၁ မည်လောဟုမေးလျှင်၊- ပေါလုသည် ဘုန်းကြီး
တော် မူသော ဘုရင်၏ အယူ တော် ကို ခံလို၍၊
မိမိကို ချုပ်ထားစေခြင်း ငှါ တောင်းပန် သော
ကြောင့်၊ သူကို ကဲသာ ဘုရင် ထံ တော် သို့ မစေ
လွှတ်မှီ တိုင်အောင် ချုပ်ထားစေခြင်းငှါ ကျွန်ုပ်
၂၂ စီရင်သည်ဟု၊ဖေတ္တုမင်းသည်ပြောဆို၏။- အ
ဂြိပ္ပမင်းကလည်း၊ထိုသူ၏စကားကိုကျွန်ုပ်သည်
ကိုယ်တိုင်နားထောင်ချင်ရှိသည်ဟု ဆို
လျှင်၊ဖေတ္တုမင်းက၊နက်ဖြန်နေ့၌သူ၏စကားကို
နားထောင်ပါလေဟုဆို၏။
၂၃ နက်ဖြန်နေ့၌အဂြိပ္ပမင်းနှင့် ဗေရနိတ်တို့သည်
များစွာသောဂုဏ်အသရေကိုဆောင်လျက်၊စစ်
သူကြီးတို့မှစ၍၊ ထိုမြို့၌ထင်ရှားသောသူများတို့
နှင့်တကွ အိမ်တော်ဦးသို့ ဝင်ကြလျှင်၊ ဖေတ္တု
၂၄ မင်းသည်ပေါလုကိုဆောင်ခဲ့စေ၏။- ဖေတ္တုမင်း
ကလည်း၊ အဂြိပ္ပမင်းကြီးမှစ၍ ထရှိသော လူ
အပေါင်းတို့၊ဤသူကိုကြည့်ရှုကြပါလော့။ ယေရုရှ
လင်မြို့၌၎င်း၊ ဤမြို့၌၎င်း၊ ယုဒလူများအပေါင်းတို့
သည်ဤသူ၏အကြောင်းကိုကျွန်ုပ်အားလျှောက်
၍၊ သူသည် ခဏမျှ အသက် မရှင် ထိုက် ဟုရေး
၂၅ ယစ်ကြ၏။- သူသည်သေထိုက်သောအပြစ်မရှိ
ကြောင်းကို ကျွန်ုပ် သိမြင်၍၎င်း၊ သူသည် ဘုန်း
ကြီးတော်မူသော ဘုရင်၏ အယူ တော်ကို ခံပါ
မည်ဟု ဆို၍၎င်း၊ သူကို အထံတော်သို့ စေလွှတ်
၂၆ စေခြင်းငှါ ကျွန်ုပ်စီရင်၏။- သူ၏ အကြောင်း ကို
ရေးထား၍ရှင်ဘုရင်ထံတော်သို့ပေးလိုက်စရာ

ဆို၊သေ-နာ-းသာအကြောင်းတစုံတခုမျှကျွန်ုပ်၌
မရှိ။ထိုကြောင့်၊သင်တို့သည်သူကိုစစ်ကြောပြီး
မှ၊ ကျွန်ုပ်ရေး၍ပေးလိုက်စရာ အကြောင်းရှိစေ
ခြင်းငှါ သင်တို့ရှေ့နှင့်၊ အဂြိပ္ပမင်းကြီး၊ အထူး
သဖြင့်ကိုယ်တော်ရှေ့၌ငင်၊သူကိုကျွန်ုပ်ထုတ်၍
၂၇ ပြ၏။- အကြောင်းမူကား၊ အကျဉ်းခံသောသူ
ကို အပြစ်မပြဘဲ စေလွှတ်သော်၊ မလျော်မသင့်
ဖြစ်မည်ထင်ပါသည်ဟုဆို၏။

၂၆

၁ ထိုအခါ အဂြိပ္ပမင်းက၊ သင်သည် ကိုယ်အဖို့
အလိုငှါ ပြောရသော အခွင့် ရှိသည် ဟု ပေါလု
အားဆိုလျှင်၊ ပေါလု သည် လက်ကို ဆန့်၍ အ
၂ ပြစ်ဖြေရာ စကားကို ဤသို့ပြော၏။- အဂြိပ္ပမင်း
၃ ကြီး၊ယုဒလူတို့သည်အကျွန်ုပ်ကိုအမှုလုပ်သမျှ
သောအရာမှာ၊ ရှေ့တော်၌ အပြစ်ဖြေရာ စကား
ကို ယနေ့ ပြောရမည် အကြောင်းကို ငင်၊ ထိုမှ
မက ကိုယ် တော် သည် ယုဒ ထုံးတမ်း၊ ဝါဒ
အမေးများကို လေ့ကျက်တော်မူကြောင်းကိုငင်
အကျွန်ုပ် သောက် ၍၊ ကိုယ် ၌ မင်္ဂလာ ရှိသည်
ဟု ကိုယ်ကိုထင်မှတ်ပါ၏။ ထိုကြောင့်၊ သည်းခံ
သော စိတ်တော် နှင့် အကျွန်ုပ် စကား ကို နား
ထောင်တော် မူမည် အကြောင်း အသနား တော်
ခံပါ၏။
၄ ယေရုရှလင်မြို့တွင် ကိုယ် အမျိုးသားချင်းတို့
၏ အထဲ ၌ အကျွန်ုပ် နေ သဖြင့်၊ ငယ် သော အ
သက်အရွယ်မှစ၍၊ အကျွန်ုပ်၏ အနေအထိုင်အ
ပြုအမူများကို ယုဒလူ အပေါင်းတို့သည် သိကြ
၅ ပါ၏။- အကျွန်ုပ် သည် ယုဒ ဘာသာ၌ အဖွန့်
ဖြစ်တည်း၊ စွာသော နည်းဥပဒေသကိုခံ၍၊ ဖာ
ရိရှဲဖြစ်သည်ကို ထိုသူတို့သည် သက်သေခံခြင်း
ငှါ အလိုရှိလျှင်၊ ရှေ့ဦးစွာကပင် သိကြပါ၏။-
၆ ဘုရား သခင် သည် ဘိုး ဘေး များ တို့အား ပေး
တော်မူသောဂတိတော်ကိုထောက်၍ မျှော်လင့်
ခြင်းတရား အကြောင်းကြောင့်၊ အကျွန်ုပ်သည်
၇ ထရုတွင်စစ်ကြောစီရင်ခြင်းကို ခံရပါ၏။- ယုဒ
လူတဆယ် နှစ်မျိုးတို့သည် နေ့ညဉ့်မပြတ်ကြိုး
စား၍ ဘုရားဝတ်ကိုပြုသဖြင့်၊ ထိုဂတိတော်အ
တိုင်း ခံရ မည်ဟု မျှော် လင့် ခြင်း ရှိကြ၏။ ထို
အဂြိပ္ပမင်းကြီး၊ ထို မျှော်လင့်ခြင်း တရားကို အ
ကြောင်းပြု၍၊ ယုဒလူတို့သည်အကျွန်ုပ်ကိုအမှု
၈ လုပ်ကြပါ၏။- သေလွန် သော သူတို့ကို ဘုရား
သခင် ထမြောက်စေတော်မူမည် ဟူသော အယူ
ကို မယူအပ်ဟု၊ သင်တို့သည် အဘယ် ကြောင့်
ထင်ကြပါသနည်း။
၉ နာဇရက်မြို့သား ယေရှု၏နာမတော်နှင့် ဆန့်
ကျင် သော အမှု များ ကို ပြု ကောင်း၏ ဟု၊ အ
၁၀ ကျွန်ုပ်သည် စိတ်ထင်လျက်၊- ယေရုရှလင်မြို့၌
ထိုအမှုကိုပြုမိပါ၏။ ယဇ်ပုရောဟိတ်အကြီးတို့
ထံ၌အခွင့်ရပြီးလျှင်၊ သန့်ရှင်းသူ အများတို့ကို
ထောင်ထဲမှာ လှောင်ထားပါ၏။ သူတို့သည် အ
သေသတ်ခြင်းကို ခံရသောအခါ အကျွန်ုပ်သည်
၁၁ ဝန်ခံပါ၏။- ထိုသူတို့သည်ဘုရားသခင်ကို ရှုတ်
ချင်ပြစ်မှားစေခြင်းငှါ၊ အကျွန်ုပ်သည်အနိုင်အ
ထက် ပြု ၍၊ ခပ် သိမ်း သော တရား စရပ် တို့၌
ကြိမ်ဖန် များစွာ ဒဏ်ပေးပါ၏။ ပြင်းစွာသော
အမျက်ဒေါသနှင့် ယစ်မူးသဖြင့်၊ တကျွန်းတနိုင်
ငံထိုင်အောင်သူတို့ကိုညှဉ်းဆဲနှိပ်စက်ပါ၏။
၁၂ ထိုသို့ပြု၍၊ ယဇ်ပုရောဟိတ် အကြီး တို့ပေး
သောအခွင့်အရာနှင့် အကျွန်ုပ်သည် ဒမာသက်
၁၃ မြို့သို့ သွားစဉ်တွင်၊- နေ၏ အရောင်ထက်မက
သောအလင်းသည်၊ အကျွန်ုပ်မှစ၍အကျွန်ုပ်နှင့်
အတူ သွား သော သူများ ပတ် ထည့်၌ ကောင်း
ကင်ထဲက ထွန်းတောက်သည်ကို၊ ရှိန်းတည့်အ
ချိန်တွင်ထမ်းထဲမှာ အကျွန်ုပ်မြင်ရပါသည်၊ အ
၁၄ ရှင်မင်းကြီး။- အကျွန်ုပ်နှင့် ထိုသူ အပေါင်းတို့
သည်မြေပေါ်မှာ လဲ၍နေကြစဉ်၊ ရှောလု ရှော
လု၊ ငါ့ကိုအဘယ်ကြောင့်ညှဉ်းဆဲသနည်း။ ဆူး
ချွန်ကို ခြေနှင့် ကန်လျှင် ခက်ခဲသည် ဟု၊
ဟေဗြဲဘာသာ အားဖြင့် ပြောသော စကားသံကို
၁၅ အကျွန်ုပ်ကြားလျှင်၊- သခင်၊ ကိုယ်တော်သည်
အဘယ်သူနည်းဟု အကျွန်ုပ်မေးလျှောက်သော်၊
ငါကား၊ သင်ညှဉ်းဆဲသော နာဇရက်မြို့သား
၁၆ ယေရှုဖြစ်သတည်း။- သို့သော်ထည်း၊ ထ၍မတ်
၁၇ တတ်နေလော့။- ငါသည် ယုဒအမျိုးသား၊ တပါး
အမျိုး သားတို့ထက်မှ သင့်ကို ကယ် လွှတ်၍၊-
၁၈ ထင်သည် ယခုမြင်ရသော အကြောင်း အရာတို့
နှင့်၊ နောက်မှ ငါသည် သင့်အား ထင်ရှားစေတော့
သော အကြောင်း အရာတို့မှာ၊ အမှုဆောင်ရွက်
သောသူ၊သက်သေခံသောသူအရာ၌ သင့်ကိုခန့်
ထားစေခြင်းငှါငါသည်သင့်အားထင်ရှား၏။တ
ပါးအမျိုးသားတို့သည် မှောင်မိုက်မှအလင်းသို့
ကူး ပြောင်း၍၊ စာတန်၏ အာဏာထဲမှ ဘုရား
သခင်အထံတော်သို့ ပြောင်းလဲသော အားဖြင့်၊
အပြစ်လွှတ်ခြင်းကျေးဇူးကိုခံရမည့်အကြောင်း၊

နှင့်၊ ငါကိုယုံကြည်သောအားဖြင့်သန့်ရှင်းခြင်း
သို့ ရောက်သော သူတို့နှင့် ဆက်ဆံ၍ အမွေခံရ
မည်အကြောင်း၊ သူတို့၏ မျက်စိကို ဖွင့်စေခြင်း
ငှါ သူတို့ ဆီသို့သင့်ကို ငါ စေလွှတ်မည်ဟု မိန့်
တော်မူ၏။
၁၉ ထိုအဂြိပ္ပမင်းကြီး၊ ကောင်းကင်က ဖြစ်သော
ထိုဗျာဒိတ်တော်ကိုအကျွန်ုပ်သည်နားမထောင်
၂၀ ဘဲမနေရပါ။- လူတို့သည် နောင်တရ ရမည်၊
နောင်တရခြင်းနှင့် ထိုက်တန်သော အကျင့်ကို
ကျင့်ရမည်၊ ဘုရားသခင်အထံတော်သို့ပြောင်း
လဲရမည်ဟူ၍၊ ဒမာသက်မြို့၌ ရှေဦးစွာ ဟော
ပြောပြီးလျှင်၊ ယေရုရှလင်မြို့မှစ၍ ယုဒပြည်အ
ရပ်ရပ်၌ နေသော သူတို့အား၎င်း၊ တပါးအမျိုး
၂၁ သားတို့အား၎င်းဟောပြောပါ၏။-ထိုအကြောင်း
များကြောင့်၊ ယုဒလူတို့သည်ဗိမာန်တော်၌အ
ကျွန်ုပ်ကို ဖမ်းဆီး၍ ကွပ်မျက်ခြင်းငှါ အား
၂၂ ထုတ်ကြပါ၏။- သို့ရာတွင်၊ ဘုရားသခင် မစ
တော်မူသောကျေးဇူးတော်ကိုအကျွန်ုပ်ခံရ၍၊-
၂၃ ယနေ့တိုင်အောင်ရှိနေရပါ၏၊ ခရစ်တော်သည်အ
သေသတ်ခြင်းကို ခံရမည်ဟူ၍၎င်း၊ သေခြင်းမှ
အဦးဆုံး ထမြောက်၍ ယုဒအမျိုးသား၊ တပါး
အမျိုးသားတို့အားအလင်းကိုပေးမည်ဟူ၍၎င်း၊
မောရှေ မှစသော ပရောဖက်များတို့ ဟော ပြော
သောစကားထက် အကျွန်ုပ်သည် မလွန်ဘဲ၊ လူ
အကြီး အငယ်တို့အားသက်သေခံ၍နေပါသည်
ဟုလျှောက်လေ၏။
၂၄ ထိုသို့ ပေါလု သည် အပြစ် ဖြေရာ စကား ကို
လျှောက်သောအခါ၊ဖေတ္တုမင်းက၊ပေါလု၊သင်
သည်သူရူးဖြစ်၏၊ သိပ္ပံ အတတ်များကို သင်၍
သူရူးအဖြစ်သို့ ရောက်ပြီဟု၊ ကြီးသောအသံ
၂၅ နှင့်ဆို၏။- ပေါလုကလည်း၊ မြတ်တော်မူသော
ဖေတ္တုမင်း၊ အကျွန်ုပ် သည် သူရူးမဟုတ်ပါ၊
သမ္မာတရားနှင့်၎င်း၊ ကောင်းသော စိတ်နှင့်၎င်း
၂၆ ရှည်သောစကားကိုပြောပါ၏။- ဤအရာများကို
အဂြိပ္ပမင်းကြီး သိတော်မူ၏။ ထိုမင်းရှေ့တော်၌
အကျွန်ုပ်အတည့်အထင်းလျှောက်ပံ့ပါ၏။ ဤအ
မှုအရာတစုံတခုကိုမျှမင်းကြီးမသိဘဲနေတော်မ
မူဟုအကျွန်ုပ်ထင်ပါ၏၊ အကြောင်းမူကား၊ ဤ
အမှုသည် ဆိတ်ကွယ်ရာအရပ်၌ ပြုသောအမှုမ
၂၇ ဟုတ်ပါ။- ထိုအဂြိပ္ပမင်းကြီး၊ ကိုယ်တော်သည်
အနာဂတ္တိကျမ်းစာကို ယုံတော်မူသလော၊ ယုံ
တော်မူသည်ကို အကျွန်ုပ်သိပါသည်ဟုလျှောက်
၂၈ ၏။-အဂြိပ္ပမင်းကလည်း၊သင်ထစ်ခြားထောင်း
သွေးဆောင်သောအားဖြင့်၊ ငါသည်ခရစ်ယာန်
၂၉ ဖြစ်လုပြီဟု ပေါလုအား ပြောဆိုလျှင်၊- ပေါလု
က၊ ကိုယ်တော် မှစ၍ ယနေ့ တွင် အကျွန်ုပ်၏
စကားကိုကြားသောသူအပေါင်းတို့သည်၊ ဤသံ
ကြိုးကို ထား၍ အကျွန်ုပ်ကဲ့သို့ သောသူ ဖြစ်လု
သည်သာမက၊လုံးလုံးဖြစ်စေခြင်းငှါဘုရားသခင်
ကို အကျွန်ုပ် ဆုတောင်းပါသည်ဟု လျှောက်
၃၀ လေ၏။- ထိုအခါမင်းကြီးနှင့်ဗေရနိတ်သည်ထ
၍ မြို့ဝန်မင်းမှစသော အပေါင်း အဖော်များတို့
၃၁ နှင့်တကွ၊- အခြားသို့သွားပြီးလျှင်၊ဤသူသည်
အသေသတ်ခြင်း၊ အကျည်း ထားခြင်း ခံ ထိုက်
သောအမှုကိုမပြုဟု၊အချင်းချင်းပြောဆိုကြ၏။-
၃၂ အဂြိပ္ပမင်းကလည်း၊ ဤသူသည်ကဲသာဘုရင်၏
အယူတော်ကိုခံပါမည်ဟုမဆိုမိလျှင်လွှတ်သင့်
သည်ဟု၊ဖေတ္တုမင်းအားဆို၏။

၂၇

၁ ထိုအခါ ငါတို့သည် ဣတလိပြည်သို့ သင်္ဘော
နှင့်ကူးရမည်အကြောင်းကို စီရင်ပြီးမှ၊ယုလိအ
မည်ရှိသောဩဂုတ္တုတပ်နှင့်ဆိုင်သောတပ်မှူး
၌ပေါလုမှစ၍ အကျည်းခံသောအခြားသူတို့ကို
၂ အပ်ကြ၏။- အာဒြမုတ္တိ သင်္ဘောကို စီး၍ အာရှိ
ပြည်နားသို့ ရွက်သွားမည်အကြံနှင့် လွှင့်ကြ
၏၊အာရိတ္တခုအမည်ရှိသော၊ မာကေဒေါနိပြည်
သက်သာလောနိတ် မြို့သား သည် ငါ တို့နှင့် ပါ
၃ ၏။- နက်ဖန်နေ့တွင်ဇိဒုန်မြို့၌ဆိုက်ကြပြီးလျှင်၊
ပေါလုသည် မိမိအဆွေခင်ပွန်းတို့ထံသို့သွား၍၊
သူတို့၏လုပ်ကျွေးပြုစုခြင်းကိုခံရမည်အကြောင်း၊
၄ ယုလိသည်ကျေးဇူးပြု၍အခွင့်ပေးလေ၏။- ထို
မြို့မှ ထွက်၍ လေမသင့် သောကြောင့်၊ ကုပရု
ကျွန်း မြောက်ထက်နားသို့ ရွက် သွားသဖြင့်
၅ ကိလိကိပြည်၊-ပံဖုလိပြည်နှင့်စပ်သောပင်လယ်
ကိုကူး၍၊ လုကိပြည်၊ မုရမြို့သို့ ရောက်ကြ၏။-
၆ ထိုမြို့၌ ဣတလိ ပြည်သို့ ကူး သော အာလေဇန္ဒြိ
သင်္ဘောကို တပ်မှူးသည်တွေ့၍၊ ထိုသင်္ဘောထဲ
၇ သို့ငါတို့ကိုသွင်းထားလေ၏။-နှေးနှေးသာသွား
၍ နေ့ရက်ကာလ ကြာ သော အခါ၊ ပင်ပန်းစွာ
ကြိုးစား၍ ကနိဒ်မြို့နှင့် တည့်တည့်ရောက်ပြီးမှ၊
လေမသင့် သောကြောင့် ကရေတေကျွန်း အရှေ့
ထက်၊သာလမုန်မြို့အနားသို့ပင်ပန်းစွာရွက်
၈ သွား၍၊- လာသဲမြို့နှင့်အနီး၊ ကာလုလိမင်း အ
မည်ရှိသောအရပ်သို့ရောက်ကြ၏။

၉ ကာလကြာသည်ရှိသော်၊ကြီးစွာသောဥပုသ်
နေ့လွန်၍ ပင်လယ် မကူးသင့်သော ထ ဥတုအ
၁၀ ချိန်ဖြစ်သဉ်ကိုပေါလုသည်ထောက်၍၊-အချင်း
လူ ထို့၊ ယခုမှာ ပင်လယ် ကူးလျှင် သင်္ဘော နှင့်
ကုန်များတို့သည် ဆုံး ရှုံး သည်သာမက၊ ငါတို့
အသက်ပျက်စီးရာသောတေး အန္တရာယ်ရောက်
၁၁ မည်ကို ငါထင်မြင်သည်ဟု သတိ ပေး၏၊- သို့
သော်လည်း၊ တပ်မှူးသည်ပေါလုစကားကိုနား
မထောင် ဘဲ၊ တက် မ ကိုင် စ ကား နှင့် သင်္ဘော
၁၂ သူကြီး စကားကို နား ထောင်၏၊- ထိုမြို့ဆိပ် ၌
ဆောင်းကာလ ထ ပတ်လုံး မ နေသင့် သောကြောင့်
တစန်လွှင့်ပြန်၍၊ဖိနိတ်မြို့ဆိပ်သို့မှီနိုင်လျှင်၊ ထို
ဆိပ်၌ ဆောင်းကာလ ကို လွန် စေ သော် သာ၍
ကောင်းမည်ဟု၊ လူအများတို့သည် ဆိုကြ၏၊ဖိ
နိတ်ဆိပ်ကား၊ကရေတေကျွန်းနှင့်မှီ၏၊ အနောက်
မြောက်သို့၎င်း၊ အနောက်တောင်သို့၎င်း ရှုက်နှာ
၁၃ ပြု၏၊-တောင်လေသဉ်ဖြည်းညှင်းစွာလာသော
အခါ၊ ယခုမှီနိုင်သည်ဟုစိတ်ထင်နှင့်လွှင့်၍၊က
၁၄ ရေတေကျွန်းနားသို့ရှောက်သွားကြ၏၊-ကာထ
မကြာမမြင့်မှီ ဥရုကလုဒုန် အမည်ရှိသော လေ
၁၅ ပြင်းမုန်တိုင်းသည်သင်္ဘောကိုတိုက်၍၊-တဖုန်
တည်းဆောင်သွားသဖြင့်၊သင်္ဘောသည်ထိုလေ
ကိုမခံနိုင်သောကြောင့်၊ ငါတို့သည်အားလျော့
၁၆ ၍ ထေတိုက်ရာသို့ ပါလွှင့်ကြ၏၊- ကလောဒေ
ကျွန်းနားမှာပြေးစည်တွင်၊ သံထန်ကိုမဖျက်စေ
၁၇ ခြင်းငှါပင်ပန်းစွာကြိုးစား၍၊- သင်္ဘောပေါ်သို့
တင်ပြီးလျှင်၊ သင်္ဘောကို မိုင်ခံ့စေခြင်း ငှါ ကြိုး
နှင့်ပတ်စည်းကြ၏၊ သောင်ပေါ်မှာတင်မည်ကို
ထည်းပိုးရိမ်သောကြောင့် ရွက်ကို သိမ်းသဖြင့်
၁၈ ထေပိုက်ရာသို့ပါလွှင့်ကြ၏၊-လှိုင်းထအားကြီး
သောကြောင့် အလွန် တုန်လှုပ်၍၊ နက်ဖန်နေ့၌
၁၉ ဝန်ကိုထုတ်ပြစ်ကြ၏၊- သုံးရက် မြောက်သော
နေ့၌ သင်္ဘော တန်ဆာများကို ကိုယ် ထက် နှင့်
၂၀ ကိုင်ယူ၍ပြစ်လိုက်ကြ၏၊- နေ၊လ၊ကြယ်နက္ခတ်
ထို့ကိုတာရှည်စွာမမြင်ရ၍မိုဃ်းသက်မုန်တိုင်း
အားကြီးသေးသဖြင့်၊ ကယ်တင်ခြင်းသို့ရောက်
မည်ဟုမျှော်စရာအ ခွင့်အလျှင်းမရှိ၊
၂၁ အစာကိုမစားဘဲကြာမြင့်စွာနေကြပြီးမှ၊ပေါ
လုသည် ထိုသူတို့၏ အလယ်၌ထ၍၊ အချင်းလူ
တို့၊ ငါစကားကိုနားထောင်၍ကရေတေကျွန်းမှမ
ထွက်ဘဲနေလျှင်၊ ဤပျက်စီးဆုံးရှုံးခြင်းနှင့် ကင်း
၂၂ လွတ်ရကြ၏၊- ယခုတွင် စိတ်သက်သာ ခြင်းရှိ
ကြလော့၊ အကြောင်းမူကား၊ သင်္ဘောဆုံးခြင်း
မှတပါး သင်တို့တွင်အသက်သုံးမှုအသက်မဆုံး
၂၃ ရ၊- အကြောင်း နည်းဟူမူကား၊ ငါကိုပိုင်
တော်မူ၍၊ ငါ ကိုးကွယ် သော ဘုရား သခင် ၏
ကောင်းကင်တမန်သဉ် ယနေ့ညည့်တွင်ငါ့အနား
၂၄ မှာပေါ်ထာလျက်၊- ပေါလု၊ သင်သည်မစိုးရိမ်
နှင့်၊ ကဲသာဘုရင်ရှေ့သို့ရောက်ရမည်၊ သင်နှင့်
အ တူ ပင် ထ ယ် ကူး သော သူ အ ပေါင်း တို့ ကို
ဘုရားသခင်သည်သင့်အားပေးတော်မူပြီဟုဆို
၂၅ ၏၊- ထိုကြောင့် အချင်းလူတို့၊ သက်သာခြင်းရှိ
ကြလော့၊ ငါ့အား မိန့်တော်မူသည် အတိုင်း ဖြစ်
လိမ့်မည်ဟု၊ ငါသည်ဘုရားသခင်ကို အမှီပြု၍
၂၆ ယုံခြင်းရှိ၏၊- သို့သော်လည်း၊ တစုံတခု သော
ကျွန်းပေါ်မှာ သင်္ဘောတင်၍ ပျက်ရမည်ဟုပေါ
လုဆို၏၊
၂၇ တ ဆယ် လေး ရက် မြောက် သော နေ့ ညည့်
ရောက်သော အခါ၊ ငါတို့သည် အာဒြိယပင်လယ်
တွင်အရပ်လေးမျက်နှာသို့လူးလာသွားကြစဉ်၊
သန်းခေါင်အချိန်၌ တစုံတခုသောကမ်းအနီးသို့
ရောက် လုသည်ဟု၊ သင်္ဘောသားတို့သည် ထင်
၂၈ မှတ်သဖြင့်၊- ရေကိုစမ်းလျှင် အထိန္နှစ်ဆယ်ရှိ
သည်ကို တွေ့ကြ၏၊ ထိုမှပိုးစည်းလွန်ပြန်လျှင်၊
တဖန် ရေကို စမ်း၍ တဆယ် ငါး ထိ ရှိသည် ကို
၂၉ တွေ့ကြည်၊-ကျောက်ကိုတိုက်မိမည်စိုးရိမ်သော
ကြောင့် သင်္ဘော ပဲ့မှ ကျောက် ဆူး လေး ထည်
ကိုချ၍ မိုဃ်းလင်းပါစေဟု ဆုတောင်းကြ၏၊-
၃၀ သင်္ဘောသားတို့သည် သင်္ဘောကို စွန့်သွားမည်
ဟု အကြံ ရှိ သည် နှင့်၊ သင်္ဘော ဦး သို့ သွား၍
ကျောက်ဆူးချဟန်ပြုလျက်သံဘန်ကိုလျှော့စဉ်
၃၁ တွင်၊- ပေါလုက၊ဤသူတို့သည်သင်္ဘောပေါ်၌မ
နေလျှင်၊ သင်တို့သည် စွမ်းသာမရ နိုင်ကြ ဟု၊
၃၂ တပ်မှူးမှစ၍စစ်သူရဲတို့အားဆို၏၊-ထိုအခါစစ်
သူရဲတို့သည်သံဘန်ကြိုးကိုရုတ်ဖြတ်၍ချလိုက်
ကြ၏၊
၃၃ မိုဃ်းလင်း လု သောအခါ အစာ ကို စား စေ
ခြင်းငှါပေါလုသဉ်လူအပေါင်းတို့ကိုတိုက်တွန်း
လျက်၊ သင်တို့သည် တဆယ်လေးရက်ပတ်လုံး
မျှော်လင့်၍ယနေ့တိုင်အောင်အစာမစားဘဲ တော်
၃၄ ခွတ်လျက်နေကြ၏၊- ထိုကြောင့်၊ အစာ စားကြ
လော့၊ စားလျှင် ချမ်းသာရခြင်း အကြောင်းဖြစ်
၃၅ လိမ့်မည်၊- သင်တို့ဆံခြည်တပင်မျှ မပျက်စီးရ
ဟု ဆိုပြီးလျှင်၊ ပေါလုသည် မုန့်ကိုယူ၍၊ ထိုသူ

ရှေ့၌ ဘုရားသခင်၏ ကျေးဇူးတော်ကို ချီး
၃၆ မွမ်းပြီးမှ ဖဲ့၍စားလေ၏။- ထိုသူအပေါင်း
တို့သည်လည်း၊ စိတ်သက်သာခြင်းရှိ၍ အစာကို
၃၇ စားကြ၏။- ထိုသင်္ဘော၌ ပါသော သူများ တို့
သည် အရေအတွက်အားဖြင့် နှစ်ရာ ခုနစ်ကျိပ်
၃၈ ခြောက် ယောက် ရှိသတည်း။- ဝစွာ စားပြီးမှ
ဆန်စပါးကို ပင်လယ်ထဲသို့ ပြစ်ချ၍ သင်္ဘောကို
ပေါ့စေကြ၏။
၃၉ မိုးလင်းသောအခါ ထိုအရပ်ကိုမသိသော်
လည်း၊ ထောင့်ကွေ့ဘစု၌ သဲသောင်ဆိပ်ရှိသည်
ကို မြင်သောကြောင့်၊ သင်္ဘောကိုအထဲသို့သွင်း
၄၀ နိုင်လျှင် သွင်းမည်ဟုအကြံရှိကြ၏။- ကျောက်
ဆူးတို့ကို လွှတ်၍ ပင်လယ်ထဲသို့ ချလိုက်ပြီးမှ
တက်မတို့ကို ဆိုင်းသော ကြိုးများကို ဖြည်၍၊
ရွက်ကိုထောင်၍ ဖြန့် ဖွင့်လျက်ကမ်းနားသို့ တိုက်
၄၁ သွားကြ၏။-ရေဆိုင်ရာသို့ရောက်လျှင်၊သင်္ဘော
ကို သောင်ပေါ်မှာ တင်စေ၍ ဦးမလှုပ်ဘဲ နေသ
ဖြင့်၊ပဲ့ကိုလှိုင်းတံပိုးရိုက်သောကြောင့်ကျိုး၏။-
၄၂ ထိုအခါ အကျဉ်းခံသော သူတို့သည် ကူး၍
ကူး၍ ပြေးမည်ကို စိုးရိမ်သောကြောင့် စစ်သူရဲ
၄၃ တို့သည် သတ်မည်ဟု အကြံရှိကြ၏။- တပ်မှူး
သည်ပေါလုကို ချမ်းသာ စေခြင်းငှါ အလိုရှိသ
ဖြင့်၊ စစ်သူရဲတို့၏အကြံကိုမြစ်တား၍၊ ကူးနိုင်
သောသူတို့သည်အရင်ဆင်း၍ ကုန်းသို့သွားစေ
၄၄ ခြင်းငှါရင်၊-ကြွင်းသောသူတို့သည်ပျဉ်ပြားမှစ
၍ သင်္ဘော တန်ဆာများကို စီးစေခြင်းငှါရင် စီ
ရင်လေ၏၊ ထိုသို့ လူအပေါင်း တို့သည် ဘေးနှင့်
လွတ်၍ကုန်းပေါ်သို့ရောက်ကြ၏။

၂၈

၁ ကုန်းပေါ်သို့ရောက်သောအခါ၊ထိုကျွန်းကား
၂ မေလိတေကျွန်းဖြစ်သည်ကိုသိကြ၏။-မိုးရွာ
၍ချမ်းသောကြောင့် လူရိုင်းတို့သည် မီးမွေးပြီး
လျှင်၊ ငါတို့အပေါင်းကိုလက်ခံ၍ အထူးသဖြင့်
၃ ကျေးဇူးပြုကြ၏၊-ပေါလုသည်ထင်းကိုစုသိမ်း
၍မီးပေါ်မှာထည့်စဉ်တွင်၊ မြွေဆိုးသည်မီးငွေ့
ထဲကထွက်၍ ပေါလု၏ လက်ကို တွယ်လျက်နေ
၄ ၏။- ထိုလူရိုင်းတို့သည်မြင်လျှင်၊ ဤလူကား၊လူ
အသက်ကိုသတ်သောသူအမှန်ဖြစ်၏၊ပင်လယ်
ဘေးမှလွတ်သော်သည်း၊အသက်ရှင်စေခြင်းငှါ
တရားသည် အခွင့်မပေးဟု၊ အချင်းချင်း ဆိုကြ
၅ ၏။- ပေါလုသည်မြွေကိုမီးထဲသို့ခါချ၍ အဘယ်
၆ ဘေးမျှမသင့်၊-သူသည်တကိုယ်လုံးရောင်မည်၊
တခဏချင်းတွင်လဲ၍သေမည်ဟု၊ထိုသူတို့သည်
ကြာမြင့်စွာ ငံ့ထင့် သော်လည်း၊ သူ၌ မကောင်း
သော အပြစ် တစုံတခုကိုမျှ မမြင်လျှင် သဘော
ပြောင်းလဲ၍၊ ဤသူကား နတ်ဘုရားဖြစ်သည်ဟု
ဆိုကြ၏။
၇ ထိုအရပ် နှင့် မနီးမဝေး ပုဗလိ အမည်ရှိသော
ကျွန်းသူကြီး၏နေရာရှိ၏၊ ထိုသူကြီးသည် ငါတို့
ကိုလက်ခံ၍၊ သုံးရက် ပတ်လုံး ကောင်း စွန်စွာ
၈ ထုပ်ကျွေး ပြုစုလေ၏။- ပုဗလိမင်း၏ အဘသည်
ဖျားနာနှင့် ဝမ်းကျသွေးသွန်နာစွဲ၍၊ တုံးလုံးနေ
သည်ကိုပေါလုဝင်၍ဆုတောင်းပြီးမှ၊သူအပေါ်
၉ ၌လက်တင်၍ အနာကိုငြိမ်းစေ၏။-ဤသို့ပြုသော
ကြောင့်၊ ထိုကျွန်း၌အနာရောဂါစွဲသော အခြား
သူရှိသမျှတို့သည်လာ၍ ချမ်းသာခြင်းကို ရကြ
၁၀ ၏၊-ထိုသူတို့သည်များစွာသောလက်ဆောင်တို့
ကိုပေး၍၊ငါတို့သည် ထွက်ပြန်သောအခါ ရိက္ခာ
များကိုထည့်းသင်္ဘောပေါ်သို့တင်ကြ၏။
၁၁ သုံးလလွန်လျှင်၊ နတ်သားအမွှာတို့၏ရုပ်တု
ပါသော၊ ထိုကျွန်း၌ ဆောင်းကာလပတ်လုံးနေ
ခဲ့ဘူးသော အာလေဇန္ဒြိ သင်္ဘောကို ငါတို့သည်
၁၂ စီးပြန်၍၊- သုရကုတ်မြို့သို့ ဆိုက်လျှင် သုံး ရက်
၁၃ နေကြ၏။- ထိုမြို့မှ ထွက်ပြန်၍ ပိုက်သွား သဖြင့်၊
ရေဂျုန်မြို့သို့ ရောက်၍ တရက် နေပြီးမှ တောင်
လေထသောကြောင့်၊နှစ်ရက်တွင်ပေါတယောလ
၁၄ လိမြို့သို့ရောက်ကြ၏။- ထိုမြို့၌ညီအစ်ကိုအချို့တို့
ကို တွေ့၍ ခုနစ် ရက် နေကြ ပါဟု၊ သူ တို့ သည်
တောင်းပန်သည်အတိုင်း နေပြီးမှ၊ ရောမ မြို့သို့
၁၅ ခရီး သွား ကြ၏။- ရောမမြို့သား ညီအစ်ကို တို့
သည် ငါတို့လာကြောင်းကို ကြားသိလျှင်၊ ခရီး
ဦးကြိုပြုအံ့သောငှါအချို့တို့သည်အပ္ပိဈေးတိုင်
အောင်၎င်း၊ အချို့သည် သုံးဇရပ်တိုင်အောင်
၎င်လာကြ၏၊ ပေါလုသည်ထိုသူတို့ကိုမြင်လျှင်၊
ဘုရားသခင်၏ ကျေးဇူးတော်ကို ချီးမွမ်း၍ စိတ်
၁၆ သက်သာ ခြင်းသို့ ရောက် လေ၏။- ရောမ မြို့သို့
ရောက်ကြသောအခါ တပ်မှူးသည် အကျဉ်းခံ
သောသူတို့ကိုကိုယ်ရံတော်မှူး၌ အပ်လေသော်၊
ပေါ လု သည် မိမိ ကို စောင့် သော စစ် သူ ရဲ တ
ယောက်နှင့်အတူမိမိအလိုအလျောက်နေရသော
အခွင့်ကိုရ၏။
၁၇ သုံးရက် လွန်သောအခါ၊ပေါလုသည် ထုဒလူ
အကြီးအကဲတို့ကိုခေါ်၍ စုဝေးစေပြီးလျှင်၊ ညီ
အစ်ကိုတို့၊ အကျွန်ုပ်သည် ထုဒ လူမျိုးကို မပြစ်

များ၊မိစဉ်ဆက်ကျင့်သောထုံးတမ်းကိုမပယ်
သောသူ ဖြစ်လျက်ပင်၊ ယေရုရှလင် မြို့သားတို့
သည်အကျွန်ုပ်ကိုအကျဉ်းထား၍၊ရောမလူတို့
၁၈ လက်သို့ အပ်လိုက်ကြ၏။- ရောမလူတို့သည် အ
ကျွန်ုပ်ကိုစစ်ကြောပြီးမှ၊ သေထိုက်သောအပြစ်
တစုံတခုကိုမျှမတွေ့သဖြင့်လွှတ်ခြင်းငှါအလိုရှိ
၁၉ ကြ၏။-ထိုအလိုကိုယုဒလူတို့သည်ဆီးတားသော
အခါ၊ကဲသာဘုရင်၏အယူတော်ကိုခံပါမည်ဟု
အကျွန်ုပ်ဆိုရ၏။ထိုသို့ဆိုသော်အမျိုးသားချင်း
တို့ကို အပြစ်တင်စရာ တစုံတခု ရှိသောကြောင့်
ဆိုသည် မဟုတ်၊ ထိုကြောင့်၊ သင်တို့ကိုမြင်၍
၂၀ နှုတ်ဆက်ခြင်းငှါအကျွန်ုပ်ခေါ်ပါပြီ၊- ဣသရေ
လ အမျိုး၏ မျှော်လင့် ရာ အတွက် ကြောင့်၊ အ
ကျွန်ုပ်သည် ဤသံကြိုးနှင့် ချည်နှောင်ခြင်းကိုခံ
၂၁ ရပါ၏ဟုပြောဆိုလျှင်၊- ထိုသူတို့က၊ သင်၏ အ
ကြောင်းကို ကြားလိုက်သောစာကိုယုဒပြည်မှအ
ကျွန်ုပ်တို့မရကြ။ထိုပြည်မှလာသောညီအစ်ကိုတို့
တွင် အဘယ်သူမျှ သင်၌ အပြစ်ရှိကြောင်းကိုမ
၂၂ ကြားမပြောပါ။-သို့သော်လည်း၊ဤဘာသာသစ်
အရပ်ရပ်တို့၌ ကဲ့ရဲ့အပြစ်တင်ခြင်းကိုခံရသော
ဘာသာဖြစ်သည်ကိုအကျွန်ုပ်တို့သိကြသည်ဖြစ်
၍၊သင်၏အယူဝါဒကိုသင်သည်ကိုယ်တိုင်ဖော်
ပြသော စကားကို အကျွန်ုပ်တို့သည် နားထောင်
၂၃ သင့်သည် ထင်ပါ၏ဟု ဆိုကြလျှင်။- နေ့ရက်ကို
ချိန်းချက်၍လူများတို့သည်ပေါလုတည်းခိုရာအ
ရပ်သို့လာကြသည်ရှိသော်၊ ပေါလုသည် ဘုရား
သခင်၏ နိုင်ငံတော်အကြောင်းကို သက်သေခံသ
ဖြင့်၎င်း၊ ထိုသူတို့သည် ယေရှု၏အကြောင်းများ
ကို ယုံကြည်စေခြင်းငှါ၊ မောရှေ၏ပညတ္တိကျမ်း
နှင့်အနာဂတ္တိကျမ်းတို့ကိုအမှီပြု၍ပြားယောင်း
သွေးဆောင်သဖြင့်၎င်း၊ နံနက်အချိန်မှစ၍ညအ
ချိန်တိုင်အောင်ထုတ်ဖော်ဟောပြောလေ၏။
၂၄ အချို့တို့သည်ပေါလု၏စကားကိုယုံကြ၏။ အ
၂၅ ချို့တို့သည်မယုံဘဲနေကြ၏။- ထိုသို့အချင်းချင်း
သဘောကွဲပြား၍ သွားကြ၏။ သွားကြစဉ်တွင်
ပေါလုသည် စကားတခွန်းကို ပြော လိုက်သည်
မှာ၊ သန့်ရှင်းသော ဝိညာဉ် တော် သည် ပရော
ဖက် ဟေရှာယ အားဖြင့် မိန့်တော်မူချက် ဟူမူ
၂၆ ကား။- သင်တို့သည် ကြားလျက်ပင် အနက်ကို
နားမလည်ဘဲ ကြားကြလိမ့်မည်။ မြင်လျက်ပင်
အာရုံမပြုဘဲ မြင်ကြလိမ့်မည်ဟု၊ ထိုလူမျိုးရှိရာ
၂၇ သို့သွား၍ပြောလော့။- အကြောင်းမူကား၊ သူ
တို့မျက်စိမမြင်၊ နားမကြား၊ စိတ်နှလုံးမသိ၊
အကျင့်မပြောင်းဘဲ၊ သူတို့အနာရောဂါကို ငါမ
ငြိမ်းစေရသည်တိုင်အောင်၊ သူတို့၏စိတ်နှလုံး
သည် မိုက်လျက်၊ နားသည်ထိုင်းလျက်၊ ထိုသိ
မျက်စိကို မှိတ်လျက် ရှိကြ၏ဟု၊ ငါတို့ ဘိုးဘေး
၂၈ များ၊ အား လျောက် ပတ် စွာ မိန့် တော် မူ၏။- ထို
ကြောင့်၊ ဘုရားသခင်၏ ကယ်တင် တော် မူခြင်း
ကျေးဇူးတော်ကို တပါး အမျိုးသားတို့အား စေ
လိုက်သည် ဖြစ်၍၊ သူတို့သည် နားထောင်မည်
၂၉ အရာကို သင်တို့ သိမှတ် ကြလော့ဟု၊- ပေါလု
ပြောဆိုပြီးမှ၊ ယုဒလူတို့သည် သွား၍ အချင်းချင်း
များစွာသောဆွေးနွေးနှီးနှောခြင်းရှိကြ၏။
၃၀ ထိုနောက်မှ ပေါလုသည် နှစ်နှစ်ပတ်လုံး မိမိ
ငှါးသော အိမ်၌နေသဖြင့်၊ မိမိထံသို့ လာသော
၃၁ သူအပေါင်းတို့ကို ဧည့်ခံ၍၊- အဘယ်သူမျှမမြစ်
တားဘဲ၊ဘုရားသခင်၏နိုင်ငံတော်အကြောင်းကို
အတည့်အလင်းဟောပြော၍၊သခင်ယေရှုခရစ်
၏အကြောင်းများကိုသွန်သင်ပြသလျက်နေ၏။

ရှင်လုကာစီရင်ရေးသားသောတမန်တော်ဝတ္ထုပြီး၏။

# ရောမဩဝါဒစာ။

## ROMANS.

၁

၁ ထိုဧဝံဂေလိတရားအားဖြင့်၊ ဗါဗိဒ်အမျိုးဖြစ်တော်မူထ
၂-၄ သော၊- သေခြင်း၌ထမြောက်တော်မူ၍၊- သန့်
ရှင်းသော ဝိညာဉ် အား ဖြင့်၊ တန် ခိုး နှင့် တကွ
ဘုရားသခင်၏ သားတော် ထင်ရှား ဖြစ်တော်မူ
သော ငါ တို့သခင် ယေရှု ခရစ်တည်း၊ ထိုသော၊
မိမိ သားတော်ကို အကြောင်းပြု၍ ဘုရားသခင်
သည် ရှေးက မိမိပရောဖက်များအား ဖြင့်၊ သန့်
ရှင်းသောကျမ်းစာ၌ ဂတိထားတော်မူသောဧဝံ
ဂေလိတရားကို ဟော စေခြင်း ငှါ၊ ရွေးချယ် ခွဲ
ထား၍ တမန်တော်အရာ၌ခန့်ထားသောယေရှု
ခရစ်၏ကျွန် ငါပေါလုသည်၊- ဘုရားသခင် ချစ်
၅ တော်မူ၍၊- သန့်ရှင်းသူအရာ၌ ခန့်ထားသော
ရောမမြို့သူမြို့သားအပေါင်းတို့ကို ကြားလိုက်ပါ
၆ ၏- အခင်ယေရှုခရစ်နှင့် ငါတို့ အဘတည်းဟူ
သောဘုရားသခင်အထံတော်က ကျေးဇူးတော်
နှင့် ငြိမ်သက်ခြင်းသည်သင်တို့၌ ရှိပါစေသော၊
သခင်ယေရှုခရစ်၏နာမတော်ကိုအမှီပြု၍လူမျိုး
အပေါင်းတို့သည် ယုံကြည် နားထောင် စေခြင်း
ငှါ၊ ထိုသခင်ထံ၌ကျေးဇူးတော်နှင့် တမန်တော်
၇ အရာကိုငါတို့သည်ခံရကြပြီ၊ထိုသခင်ခေါ်ထား
တော်မူသော သင်တို့သည်လည်း ထိုလူမျိုးတို့၌
အပါအဝင်ဖြစ်ကြ၏။
၈ သင်တို့၏ ယုံကြည်ခြင်းအရာသည် မြေတပြင်
လုံး၌ အနှံ့အပြား ကျော်စောသည်ဖြစ်၍၊ သင်
တို့အကြောင်းကြောင့်ယေရှုခရစ်အားဖြင့်၊ ငါ၏
ဘုရား သခင် ကျေးဇူး တော်ကို ရှေ့ဦးစွာ ငါ ချီး
၉ မွမ်း၏၊-ငါသည်သင်တို့ကိုမပြတ်မထပ်အောင်း
မေ့၍ အစဉ်မပြတ်ဆုတောင်းပဌနာပြုသည်ဟု၊
သားတော်၏ဧဝံဂေလိတရားကိုဟောလျက်၊အ
မှုတော်ကို စိတ် ဝိညာဉ်နှင့်တကွ ငါဆောင်ရွက်
၍၊ ငါ ကိုးကွယ်သော ဘုရားသခင် သည် ငါ၏
၁၀ သက်သေခံဖြစ်တော်မူ၏၊-မကြာမမြင့်မှီဘုရား
သခင် အလို တော်အားဖြင့် အဆင်သင့်၍၊ သင်
တို့ရှိရာသို့ငါသွားရသောအခွင့်တနေ့တစုံရှိပါမဉ
၁၁ အ ကြောင်း ဆု တောင်း ပဌနာ ပြု၏၊- သင် တို့
သည်မြဲမြံမိုန်ခံ့မည့်အကြောင်း၊ ငါသည်သင်တို့
နှင့် ဝိညာဉ် ဆုကျေးဇူးတစုံတခုကို အစဖေးခြင်း
၁၂ ငှါ၊သင်တို့ကိုအတွေ့နွေ့မြင်ချင်ပါ၏၊- ထိုသို့ဆို
သော်၊ ငါနှင့် သင်တို့သည် ယုံကြည်သော အား
ဖြင့် အချင်းချင်းအားရသက်သာခြင်းသို့ ရောက်
ကြမည်အကြောင်းကို ဆိုလိုသတည်း။
၁၃ ညီအစ်ကိုတို့၊ ငါသည် အခြားသောတပါးအမ
မျိုး သား တို့တွင် အကျိုးကို ရသကဲ့သို့ သင်တို့
တွင်လည်း၊အကျိုးတစုံတခုကိုရခြင်းငှါ၊သင်တို့
ရှိရာသို့သွားမည်ဟု အဖန်ဖန် အကြံရှိကြောင်း
ကို၊ သင်တို့မသိဘဲနေစေခြင်းငှါ ငါအလိုမရှိ၊ထို
သို့ အကြံ ရှိသော်လည်း၊ ယခုတိုင်အောင် မြစ်
၁၄ တားသော အကြောင်းရှိ၏၊- ဟေလသ လူဖြစ်
စေ၊ လူရိုင်းဖြစ်စေ၊ ပညာရှိဖြစ်စေ၊ ပညာမဲ့ ဖြစ်
စေ၊လူအမျိုးမျိုးတို့၏ကြွေးသည်ငါ၌တင်လျက်
၁၅ ရှိ၏၊-သို့ဖြစ်လျှင်၊ငါတတ်နိုင်သမျှအတိုင်းရော
မမြို့သားဖြစ်သော သင်တို့အားဧဝံဂေလိတရား
၁၆ ကိုဟောခြင်းငှါစေတနာစိတ်ရှိ၏၊-ငါသည်ခရစ်
တော်၏ဧဝံဂေလိ တရား ကြောင့် ရှက်ကြောက်
ခြင်းမရှိ၊ အကြောင်းမူကား၊ထိုတရားသည်ရှေ့
ဦးစွာ၌ယုဒလူ၊နောက်၌ဟေလသလူ၊ ယုံကြည်
သမျှသောသူအပေါင်းတို့ကို ကယ်တင်စေသော
၁၇ ဘုရားသခင်၏တန်ခိုးတော်ဖြစ်၏၊- အသက်ရှင်
ဖြစ် သ နည်း ဟူ မူ ကား၊ ဖြောင့် မတ် သော သူ
သည် ယုံကြည်ခြင်း အားဖြင့် အသက် ရှင်လိမ့်
မည်ဟု ကျမ်းစာထားသည်နှင့် အညီ၊ ယုံကြည်
ခြင်း၌ တည်သောဘုရားသခင်၏ဖြောင့်မတ်ခြင်း
တရားသည်၊ ယုံကြည်ခြင်းအမှီအလိုငှါ ဧဝံဂေ
လိတရားအားဖြင့်ထင်ရှားလျက်ရှိ၏။
၁၈ သမ္မာတရားကို အဓမ္မဖြင့် ဆီးတား နှိပ်စက်
သောသူတို့ပြုတတ်သော ဘုရားမဲ့ခြင်း၊ အဓမ္မ
တရားကို သွန်ကျူး ခြင်းအမှု အမျိုးမျိုးတို့ အ
စက်၌၊ဘုရားသခင်၏အမျက်တော်ထင်ရှားစေ
၁၉ ကင်မှ ထင် ရှား လျက် ရှိ၏၊- အဘယ် ကြောင့်
နည်းဟူမူကား၊ သိအပ်သော ဘုရားသခင်၏အ
ကြောင်းအရာတို့သည် သူတို့တွင် ထင်ရှားလျက်
ရှိ၏၊ဘုရားသခင်သည်သူတို့အားပြတော်မူပြီ၊-
၂၀ အဘယ် သို့ နည်း ဟူ မူ ကား၊ ... ဆင်း တော် မူ

သော အရာ များကို သောတ ၍ သမြင်၊ ထာဝရ
တန်ခိုးတော်နှင့် ထာဝရ ဘုရားဖြစ်တော်တည်းဟူ
သော၊ မျက်မြင်မရသောဘုရားသခင်၏အရာတို့
သည် ကမ္ဘာ တည် သည် ကာလမှစ၍ ထင်ရှား
လျက်ရှိကြ၏၊ ထိုကြောင့်၊ သူတို့သည် ကိုယ်အ
၂၁ ပြစ်ကိုမဖုံးနိုင်ရာ။–အကြောင်းမူကား၊ ထိုသူတို့
သည်ဘုရားသခင်ကိုသိလျက်ပင်၊ ဘုရားသခင်
ကို ရှိုးမွမ်း၊ သင့်သည်အတိုင်း မရှိုးမွမ်း။ ကျေး
ဇူးတော်ကိုလည်းမသိမမှတ်၊ အချည်းနှီးတွေး
ခြင်း၊ သတိမရှိသော မိတ်နှလုံး မိုက်မဲခြင်း၊
၂၂ သို့ရောက်ကြ၏။–ပညာရှိရောင်ဆောင်လျက်နှင့်
၂၃ လူမိုက်အရာ၌ တည်ကြသည်ဖြစ်၍၊– မဖောက်
ပြန် မပျက်စီးနိုင်သော ဘုရားသခင်၏ဂုဏ်တော်
ကိုပယ်လျက်၊ ဖောက်ပြန်ပျက်စီးတတ်သော လူ
၏ရုပ်တုသဏ္ဌာန်အစရှိသော၊ ငှက်၊ သွား၊ တတ်သော
ထိရိစ္ဆာန်၏ရုပ်တုတို့ကို ဘုရားသခင်အရာ၌ရှိုး
ကျွတ်ကြ၏။
၂၄ ထိုကြောင့်၊ လူတို့သည်မိမိတို့ ကိုယ်ကာယ၏
အသရေကို အချင်းချင်းရှုတ်ချ မည်အကြောင်း၊
ဘုရားသခင်သည် သူတို့ကို သူတို့ ၏ ကိလေသာ
စိတ်ညစ်ညူးခြင်းသို့အပ်လိုက်တော်မူ၏။–
၂၅ ထိုသူတို့သည် မှန်သောဘုရားသခင်အရာ၌ အမှား
ကို ထား လျက်၊ ဧန်လေ၊ ထတ် သောသခင်ကို
ပယ်၍၊ ဧန်ဆင်းအပ်သော အရာကို ဝတ်ပြုကိုး
ကွယ်သောလူဖြစ်ကြ၏၊ ထိုသခင်သည်ထာဝရ
၂၆ မင်္ဂလာရှိတော်မူ၏။အာမင်။– ထိုသို့ပြုကြသော
ကြောင့်ဘုရားသခင်သည်သူတို့ကိုရှက်ကြောက်
ဖွယ် သော ကိလေသာထတ်သို့ အပ်လိုက်တော်
မူ၏။အထယ်သို့နည်းဟူမူကား၊မိန်းမတို့သည်ပကတိ
ထိထုံးစံကိုစွန့်၍ယကတိနှင့်ဆန့်ကျင်ထတ်ထုံး
၂၇ စံကိုလိုက်ကြ၏။– ထိုအတူ၊ယောကျ်ားတို့သည်
လည်း၊မိန်းမနှင့်ဆက်ဆံခြင်း၊ပကတိထုံးစံကို စွန့်
၍၊ အချင်းချင်းကိလေသာစိတ်ပူလောင်သဖြင့်၊
ရှက်ကြောက်ဖွယ်သောအမှုကိုယောကျ်ားချင်း
ပြုလျက်၊ မိမိတို့ မှားယွင်းခြင်းနှင့် အလျောက်
၂၈ မိမိတို့အပြစ်ဒဏ်ကို ခံရကြ၏။– ထိုသူတို့သည်
ဘုရားသခင်ကို မသိ မမှတ် လိုသည် ဖြစ်၍၊ မ
လျောက်ပတ်သောအမှုကိုပြုစေမည်အကြောင်း။
ဘုရားသခင်သည်သူတို့ကို မဖောက်ပြန်သောစိတ်သို့အပ်
၂၉ လိုက်တော်မူသည်နှင့်အညီ၊–သူတို့သည်အထုံး
စုံသော မတရားသောမှု၊ မတရားသောမေထုန်ကို
ပြုခြင်း၊ ဆိုးညစ်ခြင်း၊ လောဘလွန်ကျူးခြင်း၊ မ
နာလိုခြင်း၊ ငြူစူခြင်း၊ လူအသက်ကိုသတ်ခြင်း၊
ရန်တွေ့ခြင်း၊ လှည့်ဖြားခြင်း၊ သူတပါး၏ ကိုယ် ခြင်း
ရှင်းခြင်းတို့ နှင့် ပြည့်စုံသောသူ၊ ကုန်းတိုက်သော
၃၀ သူ၊– ဆဲရေးသောသူ၊ဘုရားသခင်ကိုမုန်းသော
သူ၊ကြမ်းတမ်းသောသူ၊မာနထောင်လွှားသော
သူ၊ ဝါကြွားသောသူ၊ မတတ်ကောင်းသော အ
တတ်ကို ကြံရင် သော သူ၊ မိဘ စကား ကို နား မ
ထောင်သောသူ၊ သတိမရှိသောသူ၊ သစ္စာဖောက်
၃၁ သောသူ၊– မိဘ သား မယား စသည်တို့ကို မချစ်
သောသူ၊ ရန်ငြိုးထားသောသူ၊ သနားခြင်းကရုဏာ
၃၂ စိတ် မရှိ သော သူ ဖြစ် ကြ၏။– ထိုသို့ကျင့်
သော သူတို့သည် သေပြစ်ကို ခံထိုက်သည် ဟူ
ဘုရားသခင် စီရင် တော် မူကြောင်းကို ထိုသူတို့
သည်သိလျက်ပင်၊ ကိုယ် တိုင်ကျင့်သည် သာမ
က၊ ထိုသို့ကျင့်သောသူတို့၌ နှစ်သက်မြတ်နိုး
ကြ၏။

၂

၁ သူတပါးကိုစစ်ကြောစီရင်တတ်သောလူ၊ သင်
သည်ကိုယ်အပြစ်ကိုမဖုံးနိုင်ရာ၊ အကြောင်းမူ
ကား၊ သင်သည်စစ်ကြောစီရင်သောအမှုတို့၌
ကိုယ်တိုင်ပြုသည်ဖြစ်၍၊ သူတပါးကိုစစ်ကြော
စီရင်သည်တွင် ကိုယ် အပြစ်ရှိကြောင်းကို စီရင်
၂ ဆုံးဖြတ်ရာရောက်၏။– ဘုရားသခင်သည်ထိုသို့
ပြုသော သူတို့ကို စီရင်တော် မူခြင်း အရာသည်
၃ သစ္စာတရားနှင့် ညီသည်ကို ငါတို့သိကြ၏။– ထို
သို့သောအမှုကို ကိုယ် တိုင်ပြုလျက်ပင်၊ သူတပါး
ပြုသည်ကို စစ်ကြော စီရင်သောလူ၊ သင် သည်
ဘုရားသခင် စီရင်တော်မူခြင်းနှင့် လွတ်မည်ဟု
၄ ထင်မှတ်သလော။–ဘုရားသခင်၏ကျေးဇူးတော်
သည်သင့်ကိုနောင်တသို့ ဆွဲဆောင်သည်
ကိုမသိမမှတ်ဘဲ၊ ကြွယ်ဝသောကျေးဇူး၊ ပြုတော်မူ
ခြင်း၊ သည်းခံတော်မူခြင်း၊ စိတ်ရှည်တော်မူခြင်း
၅ တို့ကိုမထီမဲ့မြင်ပြုသလော။– ထိုသို့ပြုလျှင်၊ စိတ်
နိုင်မာ၍ နောင်တ မရ သည်နှင့် အညီ ဒေါသနေ့
တည်းဟူသော၊ ဘုရားသခင်၏တရားတော်ထင်
ရှားသောနေ့၌ကိုယ်ခံရာဘို့ အမျက် ဒေါသကို
၆ သည်းမူသလော။–ဘုရားသခင်သည်လူအသီး
အသီးတို့အား မိမိတို့အကျင့်နှင့်အလျောက် အ
၇ ကျိုးအပြစ်ကို ဆပ်ပေးတော်မူလတံ့။– ကောင်း
သောအကျင့်ကို အမြဲကျင့်၍၊ ဘုန်းအသရေကို
၎င်း၊ မဖောက်ပြန်သောသဘောကို ၎င်း၊ ရှာသောသူ
တို့အား၊ ထာဝရအသက်ကိုပေးတော်မူလတံ့။–

၈ ငြင်းခုံတတ်သောသဘောရှိ၍၊ သစ္စာတရားကိုနားမထောင်ဘဲ မတရားသဖြင့် ကျင့်သောသူတို့ကိုကား၊ ပြင်းစွာသောစေတနာ အမျက်အမျက်တော်နှင့်

၉ အတူ၊ ဆင်းရဲခြင်းနှင့် ကြပ်တည်းခြင်းကိုအပ်တော်မူမည်။ အဆိုးကိုပြုသောလူသည် ယုဒလူဖြစ်စေ၊ ဟေလသလူဖြစ်စေ၊ ဆင်းရဲဒုက္ခဝေဒနာကို ခံရ

၁၀ ကြလတ္တံ့။ ကောင်းသောအကျင့်ကိုကျင့်သောသူမှီသမျှတို့သည်ကား၊ ယုဒလူဖြစ်စေ၊ ဟေလသလူဖြစ်စေ၊ ဘုန်း၊ အသရေ၊ ငြိမ်းသာခြင်းကိုခံစား

၁၁ ရကြလတ္တံ့။ ဘုရားသခင်သည် အဘယ်သူ၏ မျက်နှာကိုမျှ ထောက်တော်မမူ။

၁၂ ပညတ်တရားကိုမသိဘဲ ဒြစ်မှားသောသူတို့သည် ပညတ်တရားနှင့်ကင်း၍ ပျက်စီးခြင်းသို့ ရောက်ကြလိမ့်မည်။ ပညတ်တရားကို သိလျက်ပင် ဒြစ်မှားသောသူတို့သည် ပညတ်တရား၏စီရင်ခြင်းကိုခံ

၁၃ ရကြလိမ့်မည်။ အကြောင်းမူကား၊ တရားနာသောသူသည် ဘုရားသခင်ရှေ့၌ ဖြောင့်မတ်သည်မဟုတ်၊ တရားကိုကျင့်သောသူသာလျှင် ဖြောင့်

၁၄ မတ်ရာသို့ရောက်လိမ့်မည်။ တပါးအမျိုးသားတို့သည် ပညတ်တရားတော်ကို မသိဘဲ၊ ကိုယ်အလိုအလျောက် တရားတော်ကို ကျင့်သောအခါ၊ သူတို့သည် ပညတ်တရားတော်ကိုမသိဘဲ၊ ကိုယ်

၁၅ ကျင့်တရားကိုအမှီပြုသဖြင့်၎င်း၊ ကိုယ်ကိုကိုယ်သိသော စိတ်နှလုံးသည် သက်သေခံသဖြင့်၎င်း၊ အချင်းချင်းဆွေးနွေးဆင်ခြင်၍၊ အပြစ်တင်လျက်၊ လွှတ်လျက်နေသဖြင့်၎င်း၊ မိမိတို့စိတ်နှလုံးထဲ၌မှတ်သားသောတရား၏ အကျိုးကိုထင်

၁၆ ရှားစွာပြကြ၏။ ငါဟောပြောသော ဧဝံဂေလိတရားအတိုင်း၊ ဘုရားသခင်သည် ယေရှုခရစ်အားဖြင့် လူတို့၏မထင်ရှားသော အမှုအရာတို့ကို စစ်ကြော စီရင်တော်မူသောနေ့၌ ထိုသို့စီရင်တော်မူလတ္တံ့။

၁၇ ထင်သည်ထုတ်လူယုဒဟုသမုတ်ခြင်းကိုခံသောသူ၊ ပညတ်တရားတော်ကို ကိုးစားသောသူ၊ ဘုရား

၁၈ သခင်ကို အမှီပြု၍ ဝါကြွားသောသူ၊- အလိုတော်ကိုသိသောသူ၊ ပညတ်တရားတော်ကိုလေ့ကျက်သဖြင့် ခြားနားသောအရာတို့ကို ပိုင်းခြား

၁၉ တတ်သောသူဖြစ်သည်နှင့်၊- လူကန်းတို့အား ထမ်းပြသောသူ၊ မှောင်မိုက်၌နေသောသူတို့ကို

၂၀ ထွန်းစေသောသူ၊-လူမိုက်တို့ကိုဆုံးမတတ်သောသူ၊ သူငယ်တို့ကို နည်းပေးသောသူ၊ ပညတ်တရားတော်အားဖြင့်ပညာကို၎င်း၊ သစ္စာတရား

ကိုရုပ်ရှိစေသော သူဖြစ်သည်ဟူ၍၊ ကိုယ်ကိုယ်ကိုထင်

၂၁ မှတ်ထတ်သည်မှန်လျှင်၊-သူတပါးကိုဆုံးမလျက်ပင် ကိုယ်ကိုမဆုံးမသလော၊ လူခိုးရာကိုမခိုးနှင့်ဟု တရားဟောလျက်ပင်ကိုယ်တိုင်ခိုးသလော။-

၂၂ လူမယားကိုမပြစ်မှားနှင့်ဟုဆိုလျက်ပင် ကိုယ်တိုင်ပြစ်မှားသလော၊ ရုပ်တုကို စက်ဆုပ်ရွံရှာလျက်ပင် မိတ်မှန် တော်ကို လုယူ ခိုးယူသ

၂၃ လော။-ပညတ်တရားတော်ကိုအမှီပြု၍ဝါကြွားလျက်ပင်ထိုတရားကိုလွန်ကျူး၍၊ ဘုရားသခင်

၂၄ ၏ဂုဏ်အသရေ တော်ကို ရှုတ်ချသလော။- အကြောင်းမူကား၊ ကျမ်းစာ၌ လာသည်နှင့်အညီ သင်တို့ကြောင့် ဘုရားသခင်၏နာမတော်ကို တပါးအမျိုးသားတို့ အလွန်ကဲ့ရဲ့ ကြ၏။

၂၅ ထင်သည် ပညတ်တရားကိုကျင့်လျှင်၊ အရေဖျားလှီးခြင်းအားဖြင့် အကျိုးရှိ၏။ ပညတ်တရားကိုလွန်ကျူးလျှင်၊ သင်၏ အရေဖျားလှီး

၂၆ ခြင်းသည် အရေဖျားမလှီးဘဲ ဖြစ်ပြန်၏။- ထို့ကြောင့်၊ အရေဖျားလှီးခြင်းကိုမခံသောသူသည် တရား၌ပါသော ပညတ်တို့ကို စောင့်ရှောက်လျှင်၊ ထိုသူ၏ အရေဖျားမလှီးဘဲ အဖြစ် ကို အရေဖျားလှီးခြင်းအဖြစ်ကဲ့သို့ မှတ်ရသည်မဟုတ်

၂၇ လော။- အရေဖျားလှီးခြင်းကိုမခံသောသူသည်ထည်း၊ ကိုယ်အလိုအလျောက်ပညတ်တရားကို ကျင့်လျှင်၊ ကျမ်းစာနှင့် အရေဖျားလှီးခြင်း ရှိလျက်ပင် ပညတ်တရားကို လွန်ကျူးသောသင်ကိုတရားတွေ၍ အပြစ်ခံစေမည်မဟုတ် လော။-

၂၈ အကြောင်းမူကား၊ အပြင်အားဖြင့်သာယုဒလူဖြစ်သောသူသည် ယုဒလူမှန်မဟုတ်။ အပြင်အားဖြင့်သာ ကိုယ်အသား၌အရေဖျားလှီးခြင်းသည်

၂၉ အရေဖျားလှီးခြင်းအမှန်မဟုတ်။- အတွင်းအားဖြင့် ယုဒလူဖြစ်သောသူသည်ယုဒလူမှန်၏။ အရေဖျားလှီးခြင်းသည်လည်း ကျမ်းစောင်း၊ တရားအားဖြင့်မဟုတ်ဘဲ၊ ဝိညာဉ် တော် တရားအားဖြင့်၊ စိတ်နှလုံးနှင့်စပ်ဆိုင်၏။ ထိုသို့အရေဖျားလှီးခြင်းကို ခံသော သူ၏ အချီးအမွမ်းသည်လူ အလိုနှင့်မဆိုင်၊ ဘုရားသခင် အလိုတော်နှင့်ဆိုင်သတည်း။

၃

၁ ထိုသို့ဖြစ်လျှင်၊ ယုဒလူသည် အဘယ်သို့သာ ထနည်း၊ အရေဖျားလှီးခြင်းအားဖြင့် အဘယ်

၂ အကျိုးရှိသနည်း။- အထွေထွေသော အကျိုး

များစွာရှိ၏၊ထူးမြတ်သောအကျိုးဟူမူကား၊အ
ရေဖျားလှီးခြင်းကိုခံသောယုဒလူတို့သည်ဘုရား
၃ သခင်၏ဗျာဒိတ်တော်များကို ခံချကြ၏။- သူတို့
တွင်အချို့မယုံသော်လည်း၊ အဘယ်ဆိုဖွယ်ရှိ
သနည်း၊ သူတို့မယုံဘဲနေခြင်းအရာသည်ဘုရား
၄ သခင်၏ သစ္စာ တော်ကို ဖျက်နိုင် သလော။- မ
ဖျက် နိုင်ရာ၊ သို့ဖြစ်၍၊ မိန့် တော် မူချက် ထည်
ခြောင့်ပါ၏၊ တရားစီရင်သောအခါ အောင်မြင်
တော်မူ၏ဟု ကျမ်းစာ၌ လာသည်နှင့်အညီ၊ လူ
ခပ်သိမ်းတို့သည်သစ္စာပျက်သော်လည်း၊ဘုရား
သခင်၏ သစ္စာတော်သည် တည်စေသတည်း။-
၅ ငါတို့၏ မတရားသော အမှုသည် ဘုရားသခင်၏
ခြောင့်မတ်ခြင်းတရားတော်ကိုထင်ရှားစေလျှင်၊
အဘယ် သို့ ဆိုရ သ နည်း၊ ဘုရား သခင် သည်
ဒါဏ်ပေးတော်မူလျှင်၊ မတရားသော အမှုကိုပြု
တော်မူသလော၊ ထိုသို့ ဆိုသော် လူသဘော အ
၆ တိုင်းငါဆိုသတည်း။- ထိုသို့ မထုတ်ရာ၊ ထုတ်
လျှင်၊လောကသားတို့ကိုအဘယ်သို့စစ်ကြောစီ
၇ ရင်တော်မူမည်နည်း။-ထိုမှတပါး၊ငါသည်သစ္စာ
ပျက်သော အားဖြင့် ဘုရားသခင်၏ သစ္စာတော်
သည် ဂုဏ်အသရေတော်ကိုတိုးပွားစေလျှင်၊ ငါ
ကိုအပြစ်ရှိသောသူကဲ့သို့ အဘယ်ကြောင့် စီရင်
၈ သေးသနည်းဟူ၍မေးပြန်လျှင်၊- ကောင်းသော
အကျိုး ရှိစေခြင်းငှါ မကောင်းသော အကျင့် ကို
ကျင့်ကြကုန်အံ့ဟု၊ လူအချို့တို့သည် ငါတို့ကိုကဲ့
ရဲ့လျက်၊ ငါတို့စကားကို ပြန်ပြောသည်အတိုင်း
ဆိုဦးမည်လော၊ထိုသို့ဆိုသောသူတို့သည်ကိုယ်
အပြစ်ဒါဏ် ကို ခံထိုက်ကြ၏။
၉ ထိုသို့ဖြစ်လျှင်၊အဘယ်သို့နည်း။ငါတို့သည်
မြတ်သလောဟု မေးပြန်သော်၊ အလျှင်းမမြတ်၊
အ ကြောင်း မူ ကား၊ ယုဒ လူ၊ ဟေ လသ လူအ
ပေါင်းတို့သည် အပြစ်ရှိကြောင်းကို အထက်က
၁၀ ပြခဲ့ပြီ။- ကျမ်းစာ၌ လာသည်ကား၊ ဖြောင့်မတ်
၁၁ သောသူမရှိ၊တယောက်မျှမရှိ၊-နားလည်သော
၁၂ သူမရှိ၊ ဘုရားသခင်ကိုရှာသောသူမရှိ၊- လူအ
ပေါင်းတို့သည် ထမ်းလွဲကြပြီ၊ တညီ တညွတ်
တည်း အသုံး မရ သော သူဖြစ် ကြ ပြီ၊ ကောင်း
သောအကျင့်ကိုကျင့်သောသူမရှိ၊ တယောက်မျှ
၁၃ မရှိ။- သူတို့၏လည်ချောင်းသည် ဖွင့်ထားသော
သင်းချိုင်းတွင်းဖြစ်၏၊သူတို့သည်လျှာနှင့်လှည့်
စားတတ်ကြ၏၊ သူတို့နှုတ်ခမ်းအထဲမှာမြွေဆိုး
၁၄ အဆိပ်အတောက်ရှိ၏၊-သူတို့နှုတ်သည်ကျိန်ဆဲ
သောစကား၊ ကြမ်းတမ်းသောစကားနှင့်ပြည့်
၁၅ ဝ၏။- သူတို့ခြေသည် လူအသက်ကိုသတ်ခြင်း
၁၆ ငှါသျှင်မြန်၏။- သူတို့ သွားရာ ထမ်း၌ ဖျက်ဆီး
၁၇ ခြင်း၊ ဒုက္ခ ထင်းရဲခြင်းရှိ၏။- ချမ်းသာထမ်းကို
၁၈ သူတို့ မသိကြ။- ဘုရားသခင်ကို ကြောက်ရွံ့ရ
သော အကြောင်းသည် သူတို့မျက်စိ၌ မထင်ဟု
၁၉ ကျမ်းစာလာသတည်း။- ပညတ်တရား၌ပါသ
မျှသောစကားတို့သည် ပညတ်တရားကိုခံသော
သူ တို့နှင့်စပ်ဆိုင်သည်ကို ငါတို့သိကြ၏၊ ထိုသို့
ဖြစ်၍၊ လောကီသားအပေါင်းတို့သည်စကားတ
ရွန်းကိုမျှမပြောနိုင်ဘဲ၊ ဘုရားသခင်ရှေ့တော်၌
၂၀ အပြစ် သင့် သော သူ ဖြစ် ကြ၏။- ထိုသို့ ပညတ်
တရားသည် ဒုစရိုက်အပြစ်ကို ထင်ရှားစေသည်
ဖြစ်သောကြောင့်၊ ပညတ်တရား၏ အကျင့်အား
ဖြင့်၊ဘုရားသခင်ရှေ့တော်၌အဘယ်သူမျှဖြောင့်
မတ်ရာသို့မရောက်ရာ။
၂၁ ယခုမူကား၊ပညတ္တိကျမ်းနှင့်အနာဂတ္တိကျမ်း
တို့သည် သက် သေ ခံသည် နှင့် အညီ၊ ပညတ်
တရားနှင့် မစပ် ဆိုင်သော ဘုရားသခင်၏ဖြောင့်
၂၂ မတ်ခြင်းတရားတည်းဟူသော၊-ယေရှုခရစ်ကို
ယုံ ကြည် ခြင်း အားဖြင့်၊ ယုံကြည် သော သူအ
ပေါင်းတို့အဖို့ဖြစ်၍၊ ထိုသူ အပေါင်းတို့အပေါ်
သို့ ရောက်သော ဘုရားသခင်၏ ဖြောင့်မတ်ခြင်း
တရားသည်ထင်ရှားခဲ့ပြီ၊ ခြားနားခြင်းအလျှင်း
၂၃ မရှိ။- အဘယ် ကြောင့် နည်း ဟူမူ ကား၊ လူအ
ပေါင်းတို့သည် ဒုစရိုက်ကိုပြု၍၊ ဘုရားသခင်ရှေ့
၂၄ တော်၌ အသရေ ပျက်ကြ ပြီ၊- ယေရှုခရစ် ရွေး
နှုတ်တော် မူသော အားဖြင့်၊ အဘိုးကို မပေးဘဲ
ဘုရား သခင် ၏ ကျေးဇူး တော် ကြောင့် ဖြောင့်
၂၅ မတ်ရာသို့ရောက် ရကြ၏။- ဘုရားသခင် သည်
၂၆ သည်း ခံတော်မူ၍၊- လွန်ခဲ့ပြီးသောဒုစရိုက်အ
ပြစ်များကို မှတ်တော် မမူ ရာတွင်၊ ဖြောင့် မတ်
ခြင်းတရားတော်ကိုထင်ရှားစေခြင်းငှါ၎င်း၊ ထိုမှ
ကာထ၌ ဖြောင့် မတ် ခြင်း တရား တော် ကို ထင်
ရှားစေ၍၊ ယေရှုကိုယုံကြည်သောသူတို့၏အပြစ်
ကို လွတ်တော် မူသော် လည်း၊ တရားသဖြင့်ပြု
တော်မူခြင်းငှါ၎င်း၊ ယေရှုခရစ်၏အသွေးတော်
ကို ယုံကြည်ခြင်းအားဖြင့်၊ ထိုခရစ်တော်ကိုအ
ပြစ်ဖြေရာအကြောင်းဖြစ်စေခြင်းငှါ ခန့်ထား
တော်မူပြီ။
၂၇ သို့ဖြစ်လျှင်၊ ဝါကြွားစရာ အကြောင်း ကား၊
အဘယ်သို့နည်းဟု မေးသော်၊ ဝါကြွားစရာအ

ကြွားခြင်းကို ပယ်ပြီ။ အဘယ် တရား အား ဖြင့်
ပယ်သနည်း။ အကျင့် တရား အားဖြင့် ပယ်သ
လော။ အကျင့်တရားအားဖြင့်ပယ်သည်မဟုတ်၊
၂၈ ယုံကြည်ခြင်း တရား အား ဖြင့် ပယ်ပြီ။- ထို
ကြောင့်၊ လူမည်သည်ကား၊ ပညတ်တရား၏ အ
ကျင့်မရှိဘဲ၊ ယုံကြည်ခြင်းအားဖြင့် ဖြောင့်မတ်ရာ
၂၉ သို့ ရောက်သင့်သည် ဟု ယူရ၏။- ဘုရားသခင်
သည် ယုဒလူတို့၏ ဘုရားသာဖြစ်တော်မူသလော၊
တပါးအမျိုးသားတို့၏ဘုရားဖြစ်တော်မူသည်မ
ဟုတ်လော၊ဟုတ်ပေ၏၊ တပါးအမျိုးသားတို့၏
၃၀ ဘုရားလည်းဖြစ်တော်မူ၏။-အကြောင်းမူကား၊
အရေဖျားလှီးခြင်းကိုခံသောသူနှင့် မခံသောသူ
နှစ်ဦးကိုယုံကြည်ခြင်းအားဖြင့်ဖြောင့်မတ်ရာသို့
တဦးစေတော်မူသော ဘုရားသခင်တဆူတည်းရှိ
၃၁ တော်မူ၏။- ထိုသို့ဖြစ်လျှင်၊ယုံကြည်ခြင်းအားဖြင့်
ငါတို့သည် ပညတ်တရားကို ပယ်ကြသလော၊
အလျှင်းမပယ်၊ တည်စေကြ၏။

၄

၁ ထိုသို့ဖြစ်လျှင်၊ ငါတို့အဘအာဗြဟံသည် ဇာတိ
ပကတိအားဖြင့် အဘယ်အကျိုးကိုရသနည်း။-
၂ အာဗြဟံသည် အကျင့်အားဖြင့် ဖြောင့်မတ်ရာ
သို့ရောက်သင့်မှန်လျှင်၊ဝါကြွားစရာအကြောင်း
ရှိ၏။ ဘုရားသခင်ရှေ့တော်၌ ထိုသို့မဟုတ်။-
၃ ကျမ်းစာ၌ အဘယ်သို့ဆိုသနည်း။ အာဗြဟံ
သည်ဘုရားသခင်ကိုယုံကြည်သည်ဖြစ်၍၊ သူ၏
ယုံကြည်ခြင်းကိုဖြောင့်မတ်ခြင်းကဲ့သို့မှတ်တော်
၄ မူ၏။- အကျင့်ရှိသော သူမည်သည်ကား၊ ကျေး
ဇူးအားဖြင့်အကျိုးကိုခံရသည်မဟုတ်၊ မြီဆပ်
၅ သောအားဖြင့်ခံရ၏။- အကျင့်မရှိသော သူမည်
သည်ကား၊ မတရားသော သူ၏ အပြစ်ကို ဖြေ
သောသူကို ယုံကြည်လျှင်၊ သူ၏ ယုံကြည်ခြင်း
၆ ကိုဖြောင့်မတ်ခြင်းကဲ့သို့မှတ်လျက်ရှိ၏။- ထိုအ
တူ၊ ဘုရားသခင်သည် အကျင့်ကို မထောက်ဘဲ
လျက် ပေးတော်မူသော ဖြောင့်မတ်ခြင်းကိုရ
သောသူ၏မင်္ဂလာကို ဒါဝိဒ်သည်ရည်မှတ်၍ဆို
၇ သည်ကား၊-အပြစ်မှလွှတ်ခြင်း၊ ဒုစရိုက်အပြစ်
ကိုဖုံးအုပ်ခြင်းသို့ ရောက်သော သူတို့သည် မင်္ဂ
၈ လာရှိကြ၏။- ထာဝရဘုရား အပြစ် တင်တော်
မူခြင်းနှင့် လွတ်သော သူသည် မင်္ဂလာရှိ၏ဟု
ပြောဆိုသတည်း။
၉ အရေဖျားလှီးခြင်းကို ခံသော သူတို့ သာလျှင်
ထိုမင်္ဂလာကို ရကြသလော၊ ထိုမဟုတ်၊ အရေ
ဖျားလှီးခြင်းကို မခံသော သူတို့ သည်လည်း ရ
ကြသလော။ အဘယ်ကြောင့် မေးသနည်းဟူမူ
ကား၊ ယုံကြည်ခြင်းကို အာဗြဟံ၌ ဖြောင့်မတ်
၁၀ ခြင်းကဲ့သို့ မှတ်သည်ဟု ဆိုကြ၏။- ထိုသို့ ဆို
သော် အဘယ်သို့ မှတ်သနည်း။ အရေဖျားလှီး
ခြင်းကိုခံပြီးမှ မှတ်သလော၊ မခံမှီမှတ်သလော၊
ခံပြီးမှ မှတ်သည်မဟုတ်၊ မခံမှီမှတ်သတည်း။-
၁၁ အရေဖျားလှီးခြင်းကို မခံဘဲ ယုံကြည်သော သူ
၁၂ တို့သည်ဖြောင့်မတ်ခြင်းရှိသည်ဟု မှတ်စေရာအ
ကြောင်းမှုစေခြင်းငှါ၊ ငါတို့အဘ အာဗြဟံသည်
ထိုသူအပေါင်းတို့၏ အဘဖြစ်စေသောငှါလည်း၊ အ
ရေဖျားလှီးခြင်းကို ခံသည်သာမက၊ ငါတို့အဘ
အာဗြဟံသည်အရေဖျားလှီးခြင်းကိုမခံမှီရှိသော
ယုံကြည်ခြင်း လမ်းသို့ လိုက်သော သူတို့၏ အဘ
ဖြစ်စေသောငှါ၎င်း၊အာဗြဟံသည်အရေဖျားလှီး
ခြင်းကို မခံမှီ ရှိသော ယုံကြည်ခြင်း၏ ဖြောင့်
မတ်ခြင်း တံဆိပ်တည်းဟူသော အရေဖျားလှီး
၁၃ ခြင်း၏ လက္ခဏာကို ခံရသတည်း။- ထိုမှတပါး
ဤလောကကို အမွေခံစေမည်ဟု ဂတိတော်ကို
အာဗြဟံ မှစသော သူ၏ အမျိုး၊အနွယ်တို့သည်
ပညတ် တရား အားဖြင့် ရကြသည်မဟုတ်၊ ယုံ
ကြည်ခြင်း၏ဖြောင့်မတ်ခြင်းအားဖြင့် ရကြ၏။-
၁၄ အကြောင်းမူကား၊ပညတ်တရားနှင့်ဆိုင်သော
သူတို့သည်အမွေခံဖြစ်သည်မှန်လျှင်၊ ယုံကြည်
ခြင်းတရားကိုပယ်ပြီ၊ဂတိတော်သည်လည်းအချည်း
၁၅ နှီးဖြစ်၏။- ပညတ် တရား သည်ကား၊ အမျက်
တော်နှင့် စပ်ဆိုင်၏။ ပညတ် တရား မရှိလျှင်၊
၁၆ လွန်ကျူးခြင်း အပြစ် မရှိ။- ထိုကြောင့်၊ ဂတိ
တော်သည်ပညတ်တရားနှင့်ဆိုင်သောအမျိုးအ
နွယ်တို့၌မြဲမြံသည်သာမက၊ အာဗြဟံ၏ ယုံ
ကြည်ခြင်းတရားနှင့် ဆိုင်သော သူတို့၌ မြဲမြံ
လျက်၊ အာဗြဟံ၏ အမျိုးအနွယ်အပေါင်းတို့၌
မြဲမြံမည် အကြောင်း၊ ကျေးဇူးတော်ကြောင့်
ဖြောင့်မတ်ရာသို့ ရောက်စေခြင်းငှါ၊ ယုံကြည်
၁၇ ခြင်းတရားကိုသာ အမှီပြု၍ ရောက်နိုင်၏။- ငါ
သည်သင့်ကိုလူမျိုးအများတို့၏အဘဖြစ်စေ၏ဟု
ကျမ်းစာ၌ လာသည်နှင့်အညီ၊ထိုအာဗြဟံသည်
ကား၊ သေလွန်သော သူတို့ကို ရှင်စေတော်မူ
သော မဖြစ်သေးသော အရာတို့ကို ဖြစ်သော အ
ရာ ကဲ့ သို့ ခေါ်တော် မူ သော ဘုရား သခင်
တည်းဟူသော၊ကိုယ်ယုံကြည်သောဘုရား
ရှေ့တော်၌ ခပ်သိမ်းသော ငါတို့၏ အဘ ဖြစ်သ

၁၈ တည်း၊- သင်၏အမျိုးအနွယ်သည် ထိုသို့ဖြစ်
လိမ့်မည် ဟူ သော ဗျာဒိတ် တော် အတိုင်း၊ မိမိ
သည် လူမျိုး အများတို့၏ အဖဖြစ်မည်ဟု မျှော်
လင့်စရာ အကြောင်း မရှိဘဲ လျက်၊ ယုံကြည်၍
၁၉ မျှော်လင့်လေ၏၊- ယုံကြည်ခြင်းကြီးသည်ဖြစ်
၍၊ မိမိအသက်သည် အနှစ်တရာ လောက်မျှသ
ဖြင့်၊ မိမိကိုယ်သည်အသေကဲ့သို့ ရှိကြောင်းကို
၎င်း၊ မိမိခင်ပွန်းစာရာ၏ဝမ်းသည် သေကြောင်း
၂၀ ကို၎င်းမထောင်းမှေ့၊- ယုံမှားသောစိတ်နှင့်ကင်း
၍၊ ဘုရားသခင်၏ဂတိတော်ကို တွေးတောခြင်း
မရှိ၊ ယုံကြည်အားကြီးသဖြင့်ဘုရားသခင်ကိုချီး
၂၁ မွမ်း၍၊- ဂတိထားတော်မူသော သူသည် ဂတိ
တော်အတိုင်း ထတ်နိုင်တော်မူသည်ကို စိတ်ရှဲ
၂၂ လမ်းသေ၏၊- ထိုကြောင့်၊သူ၏ယုံကြည်ခြင်းကို
သူ၏ဖြောင့်မတ်ခြင်းကဲ့သို့မှတ်တော်မူ၏။
၂၃ ထိုသို့မှတ်တော်မူသည်ဟု၊ အာဗြဟံအကျိုး
အလို့ငှါသာကျမ်းစာ၌ရေးထားသည်မဟုတ်၊-
၂၄ ငါတို့အကျိုးအလို့ငှါ ရေးထားသတည်း။ ငါတို့
သခင်ယေရှုကိုသေခြင်းမှ ထမြောက်စေတော်မူ
သော သူကို ငါတို့ သည် ယုံကြည် လျှင်၊ ထိုယုံ
ကြည်ခြင်းကို ငါတို့၏ ဖြောင့်မတ်ခြင်းဟု မှတ်
၂၅ တော်မူသတည်း၊- ထိုသခင်ယေရှုသည် ငါတို့ အ
ပြစ်ကြောင့် အဝ်နှံ့ ခြင်း ကို ခံတော်မူ၏၊ ငါ တို့
သည် ဖြောင့်မတ်ရာသို့ ရောက်မည်အကြောင်း
ထမြောက်တော်မူ၏။

၅

၁ ထိုကြောင့်၊ ငါ တို့ သည် ယုံ ကြည် ခြင်း ရှိ၍
ဖြောင့်မတ်ရာသို့ရောက်လျှင်၊ ငါတို့သခင်ယေရှု
ခရစ်အားဖြင့်၊ဘုရားသခင်ရှေ့တော်၌ငြိမ်သက်
၂ ခြင်းကိုခံစားကြ၏၊-ထိုကျေးဇူးတော်ကိုခံစားရ
သည်အကြောင်းမှာယုံကြည်ခြင်းရှိ၍၊ထိုသခင်
အားဖြင့် ထာ ခံစားသော အခွင့်ကို ရကြ၏၊ သို့
ဖြစ်၍၊ ဘုရားသခင်၏ဘုန်းတော်ကိုမျှော်လင့်၍
၃ ဝါကြွားဝမ်းမြောက်ခြင်းရှိကြ၏၊- ထိုမျှမက၊
ဒုက္ခဆင်းရဲ ခြင်းကို ခံ၍ ဝါကြွား ဝမ်း မြောက်
ခြင်းရှိကြ၏၊အကြောင်းမူကား၊ဒုက္ခဆင်းရဲခြင်း
၄ သည် သည်းခံခြင်းကို ပြုစုတတ်၏၊- သည်းခံ
ခြင်းသည်ထည်း၊ သိတ်သေထင်ရှားခြင်းကိုပြု
စုတတ်၏၊ သက်သေထင်ရှားခြင်းသည်လည်း၊
၅ မျှော်လင့်ခြင်းကိုပြုစုတတ်၏၊-ထိုမျှော်လင့်ခြင်း
သည် ရှက် ကြောက် စရာ အ ကြောင်း နှင့် ကင်း
လွတ်၏၊အဘယ်ကြောင့်နည်းဟူမူကား၊ ငါတို့
အား ပေး တော် မူသော သန့် ရှင်း သော ဝိညာဉ်
တော်သည်ဘုရားသခင်၏ မေတ္တာတော်ကိုငါတို့
၆ စိတ်နှလုံးထဲသို့သွန်းလောင်းတော်မူ၏၊-ငါတို့
သည်အကျိုးနည်းရှိစည်တွင်၊ အချိန်တန်မှခရစ်
တော်သည် မတရားသောသူတို့အတွက်ကြောင့်
၇ အသေခံတော်မူ၏၊-ဖြောင့်မတ်သောသူအတွက်
ကြောင့်အသေခံမည်သူရှိခဲ၏၊ သူတော်ကောင်း
အတွက်ကြောင့် အသေခံဝံ့သောသူရှိကောင်းရှိ
၈ လိမ့်မည်မှန်စေတော့၊-ငါတို့သည်အပြစ်ရှိစဉ်
ပင်၊ ခရစ်တော်သည် ငါတို့ အတွက်ကြောင့် အ
သေခံတော်မူသည်ဖြစ်၍၊ ဘုရားသခင်သည် ငါ
တို့ကိုအဘယ်မျှလောက်ချစ်တော်မူသည်ကိုငါ
၉ တို့အားထင်ရှားစွာပြတော်မူ၏၊-သို့ဖြစ်၍၊ယခု
တွင် အသွေးတော်အား ဖြင့် ဖြောင့် မတ် ရာ သို့
ရောက် ပြီး မှ၊ ထို သခင် အား ဖြင့် အပြစ် ငရဲ မှ
အဘယ်မျှလွတ်တော်မူခြင်းသို့ ရောက်မည်ဟု ဆို၍
၁၀ မျှော်လင့်စရာရှိ၏၊- အကြောင်းမူကား ရန်သူ
ဖြစ်လျက်ပင်၊ဘုရားသခင်၏သားတော်အသေခံ
တော်မူခြင်း အားဖြင့်၊ ငါ တို့သည် ဘုရားသခင်
နှင့် မိဿဟာယဖွဲ့ ခြင်း ကျေး ဇူး တော် ကို ခံရ
သည် မှန်လျှင်၊ မိဿဟာယဖွဲ့ ပြီးမှ၊ အသက်
တော်အားဖြင့် ကယ်တင်တော်မူခြင်းသို့ရောက်
၁၁ မည်ဟုဆို၍မျှော်လင့်စရာရှိ၏၊- ထိုမျှမက၊ငါ
တို့သခင်ယေရှုခရစ်အားဖြင့် မိဿဟာယဖွဲ့ရာ
ကျေးဇူးကို ယခု ခံပြီးလျှင်၊ ထို သခင် အားဖြင့်
ဘုရားသခင်၌ဝါကြွားဝမ်းမြောက်ခြင်းရှိကြ၏။
၁၂ ဤအကြောင်း အရာ ဟူမူကား၊ အပြစ် တရား
သည်တယောက်သောသူအားဖြင့် ဤလောကသို့
ဝင်၍၊ အပြစ်တရားအားဖြင့်သေခြင်းတရားဝင်
သည့်နှင့်အညီ၊လူအပေါင်းတို့သည် အပြစ်ရှိသော
၁၃ ကြောင့် သေခြင်းသို့ ရောက် ရ ကြ၏၊- ပညတ်
တရားကို မထားမှီ ထိုင်အောင် ဤလောက၌ အ
ပြစ်ရှိ၏၊ အဘယ်ပညတ် တရားမျှမရှိလျှင်၊ အ
၁၄ ပြစ်ရှိသည်ဟု မှတ်စရာမရှိ၊- သို့ သော် လည်း၊
အာဒံ ထ ကီ ထက်မှစ၍ မောရှေ ထက် ထက်တိုင်
အောင် သေခြင်း တ ရားသည် အ မိုးရ၏၊ အာဒံ
ပြစ်မှား သည့်နည်းတူ မပြစ်မှားသော သူတို့ကို
ပင်အမိုးရ၏၊ ထိုအာဒံသည် နောက်လာ လတ္တံ့
သောသူ၏ပုံပမာဖြစ်သတည်း။
၁၅ သို့သော်လည်း၊ပြစ်မှားခြင်းသဘောနှင့်ကျေး
ဇူးတော်သဘောမတူ၊အကြောင်းမူကား၊လူတ
ယောက်သည်ပြစ်မှားသောအားဖြင့်၊လူများတို့

သည့် သေခြင်း၊ သို့ ရောက် ကြ၏။ ထ သောက်
သော သူတည်း၊ ဟူသော ယေရှုခရစ် အားဖြင့်၊
ဘုရားသခင် ၏ ကျေးဇူးတော်နှင့် ကျေးဇူးတော်
၏ အကျိုးသည်လူများတို့၌သာ၍ ကြွယ်ဝပြည့်
၁၆ စုံ၏။- ထိုမှတပါး၊ လူတယောက်ပြစ်မှားသောအ
ရာနှင့် ကျေးဇူးတော် အရာမတူ။ အကြောင်းမူ
ကား၊ တရား မီရင်သော အရာမှာ၊ အပြစ်တခု
ကြောင့် ဒါဏ်ခံစေဟု စီရင်၏။ ကျေးဇူးတော်အ
ရာမှာ၊ အပြစ်များလွှတ်ပင်လွတ်စေဟုစီရင်၏။-
၁၇ ထိုမှတပါး၊ လူ တယောက်သည် ပြစ်မှား သော
ကြောင့်၊ ထို တယောက်သောသူအားဖြင့် သေ
ခြင်း တရား သည် အစိုးရ၏၊ ကျေးဇူး တော် ၏
ကြွယ်ဝခြင်းကိုင၄်၊ ဖြောင့်မတ်ရာသို့ ထွင်းပေး
တော် မူ ခြင်း ကိုင၄် ခံရ သော သူ တို့ သည်၊ တ
ယောက်သောသူတည်းဟူသောယေရှုခရစ်အား
ဖြင့်၊ အသက်ရှင်လျက် သာ၍ စိုးစံရကြလတံ့။-
၁၈ ထိုကြောင့်၊ တယောက်သောသူ ၏ ပြစ်မှားခြင်း
အားဖြင့်၊ လူအပေါင်းတို့သည် အပြစ်စီရင်ခြင်း
နှင့်တွေ့ကြုံရကြသည်နည်းတူ၊ တယောက်သော
သူ ၏ ဖြောင့်မတ်ခြင်းအားဖြင့်၊ လူအပေါင်းတို့
သည် အသက်နှင့် ရှည်သော ဖြောင့်မတ် ရာသို့
၁၉ ရောက် ခြင်း အခွင့် ကို ရ ကြ ၏။- အကြောင်းမူ
ကား၊ တယောက် သော သူသည် နား မထောင်
သော အားဖြင့်၊ လူများတို့သည် အပြစ် ရောက်
သည်နည်းတူ၊ တယောက် သော သူ သည် နား
ထောင်သော အားဖြင့်၊ လူများတို့သည် ဖြောင့်
၂၀ မတ်ရာသို့ရောက်ရကြ၏။- ထိုမှတပါး၊ ပညတ်
တရားသည် တဖန် ဝင်သဖြင့် ပြစ်မှားသော အ
ပြစ် ပွားများ၏။ ထိုသော်လည်း၊ အပြစ်ပွားများ
သည် အရာမှာ ကျေး ဇူး တော် သာ ၍ ကြွယ်ဝ
၂၁ ၏။- ထိုသို့ဖြစ်လျှင်၊ အပြစ်တရားသည်သေခြင်း
အားဖြင့်အစိုးရသည်နည်းတူ၊ ငါတို့သခင်ယေရှု
ခရစ်ပြုစုတော်မူ၍ ကျေးဇူးတရားသည်ထာဝရ
အသက်နှင့်ရှည်သော ဖြောင့်မတ်ရာသို့ထွင်းခြင်း
အားဖြင့်အစိုးရစေတံ့သတည်း။

၆

၁ ထိုသို့မှန်လျှင်၊ အဘယ်သို့ပြောရမည်နည်း။
ကျေးဇူးတော်ပွားများစေခြင်းငှါ အပြစ်တရား
၂ ကိုကျင့်၍နေရမည်လော။- ထိုသို့မနေရ၊ အပြစ်
တရားမှ စုတေသောသူတို့သည် ထိုတရား၌ အ
၃ ဘယ်သို့ ရှင်ရဦးမည်နည်း။- ယေရှုခရစ်၌ နှစ်
ခြင်းကိုခံသောသူရှိသမျှတို့သည် အသေခံတော်
မူခြင်း၌နှစ်ခြင်းကိုခံကြသည်ကို၊ သင်တို့မသိဘ
၄ လော။- ထိုကြောင့်၊ အသေခံတော်မူခြင်း၌ နှစ်
ခြင်း ကို ခံသော အား ဖြင့်၊ ထို သခင် နှင့် အတူ
သင်္ဂြိုဟ်ခြင်းကို ခံကြ၏။ အကြောင်း မူကား၊
ခရစ်တော်ယဉ်ခမည်းတော်၏ ဘုန်းတန်ခိုးအား
ဖြင့်သေခြင်းမှ ထမြောက်တော်မူသည်နည်းတူ၊
ငါတို့သည်လည်း၊ အသစ်သော အသက်၌ ကျင်
၅ လည်ရကြသတည်း။- တနည်းကား၊ အသေခံ
တော်မူခြင်း၏ပုံသဏ္ဍာန်ကိုဆောင်၍၊ ထိုသခင်
နှင့်အတူ ငါတို့သည် စိုက်ပျိုးလျက် ရှိသည်မှန်
လျှင်၊ ထမြောက် တော် မူခြင်း၏ ပုံသဏ္ဍာန် ကို
၆ ဆောင်၍ စိုက်ပျိုးလျက်ရှိကြလိမ့်မည်။- ထိုမှတ
ပါး၊ ငါတို့၏လူဟောင်းသည်ထိုသခင်နှင့်အတူ
လက်ဝါးကပ်တိုင်မှာ အသေသတ်ခြင်းကို ခံပြီ
ဟု၊ ငါတို့သိကြ၏။ အကြောင်းမူကား၊ ငါတို့သည်
နောက်မှအပြစ်တရား၏ အစေကို မခံစေခြင်းငှါ၊
အပြစ်တရား၏ကိုယ်ကိုဖျက်ဆီးမည်အကြောင်း
၇ တည်း။-သေသောသူသည်အပြစ်တရား၏ထံ
၈ မှလွှတ်လျက်ရှိ၏။- ခရစ်တော်သည်သေခြင်းမှ
ထမြောက်သောအခါ၊ သေခြင်းနှင့် အစည်းကင်း
၉ လွတ်တော်မူ၏။- သေခြင်းတရားသည် နောက်
တဖန်ကိုယ်တော်ကိုမအုပ်စိုးရသည်ကို ထောက်
သော်၊ ငါတို့သည်ခရစ်တော်နှင့်အတူသေလျှင်၊
ထိုသခင်နှင့်အတူရှင်လိမ့်မည်ဟု သဘောရှိကြ
၁၀ ၏။- ခရစ်တော်သည်အသေခံတော်မူရာမှာ၊ အ
ပြစ်တရားကြောင့် တကြိမ်သာ ခံတော်မူ၏။ အ
သက် ရှင်တော် မူရာမှာ၊ ဘုရားသခင် အဖို့ ရှင်
၁၁ တော်မူ၏။-ထိုနည်းတူ၊ သင်တို့သည်အပြစ်တရား
နှင့်ဆိုင်သောအရာ၌ကား၊ အသေဖြစ်သည်ဟူ၍
၄င်၊ ဘုရားသခင်နှင့်ဆိုင်သောအရာ၌ကား၊ ငါ
တို့သခင် ယေရှုခရစ်အားဖြင့် အသက်ရှင်သည်
ဟူ၍၄င်၊ ကိုယ်ကိုကိုယ်ထင်မှတ်ကြလော့။
၁၂ ထိုကြောင့်၊ သင်တို့ ၏ သေ တတ် သော ကိုယ်
ခန္ဓာ၏တပ်မက်ခြင်းအလိုသို့ လိုက်ရသည်တိုင်
အောင်၊ အပြစ်တရားသည်ထိုကိုယ်ခန္ဓာ၌အစိုး
၁၃ မရစေနှင့်။-သင်တို့၏ကိုယ်အင်္ဂါများကိုဒုစရိုက်
ထက်နက် ဖြစ်စေ၍၊ အပြစ် တရားအား မဆက်
ကြနှင့်။ သေ ခြင်းမှ ထ မြောက် ၍ အ သက် ရှင်
သောသူ ကဲ့သို့၊ ဘုရားသခင်အား ကိုယ်ကိုကိုယ်
၁၄ ဆက်ကြလော့။- ကိုယ်အင်္ဂါများကို ထည်း၊ သုစ
ရိုက်လက်နက်ဖြစ်စေ၍၊ ဘုရားသခင်အားဆက်
ကြလော့။ သင်တို့သည် ပညတ်တရားလက်၌မ

ရှိ၊ ကျေးဇူးတရားလက်၌ရှိသောကြောင့်အပြစ်
တရားသည် သင်တို့ကိုမအုပ်စိုးရ။
၁၅ ထိုသို့ဖြစ်လျှင်၊ အဘယ်သို့နည်း။ ငါတို့သည်
ပညတ်တရားလက်၌မရှိ၊ ကျေးဇူးတရားလက်
၌ရှိသောကြောင့်၊ ဒုစရိုက်ကိုပြုရမည်လော၊ ထို
၁၆ သို့မပြုရ။– အကြင်သူ၏ထံ၌ အစေခံကျွန်ဖြစ်
ခြင်းငှါ သင်တို့ဝင်၍အစေခံ၏၊ ထိုသူသည် သေ
ခြင်းနှင့် ရှည်သော အပြစ်တရားဖြစ်စေ၊ ဖြောင့်
မတ်ရာသို့ ရောက်ခြင်းနှင့်ရှည်သောနားထောင်
ခြင်းတရားဖြစ်စေ၊သင်တို့၏သခင်ဖြစ်သည်ကိုမ
၁၇ သိကြသလော။– သင်တို့သည် အပြစ်တရား၏
ကျွန်ဖြစ်ဘူးသော်လည်း၊ ယခုတွင် ခံနှံပြီးသော
ဩဝါဒနည်းဥပဒေသစကားကိုစေတနာစိတ်နှင့်
နားထောင်ကြသည်ဖြစ်၍၊ ဘုရားသခင်၏ကျေး
ဇူးတော်ကြီးလှပေ၏၊ သင်တို့သည် အပြစ်တရား
၏ထက်မှ လွတ်ကြပြီ ဖြစ်၍၊ ဖြောင့်မတ်ခြင်း
၁၉ တရား၏ကျွန်ဖြစ်ကြ၏။– ထိုသို့ငါဆိုသော်၊သင်
တို့သည် ဇာတိ ပကတိ အတိုင်း ညာဏ်နည်း
သောကြောင့်၊ လောကီ ဝေါဟာရအားဖြင့် ဆို
သတည်း။သင်တို့သည်မိမိတို့ကိုယ်အင်္ဂါများကို
အစွန့်အလိုငှါညစ်ညူးခြင်းတရား၊အဓမ္မတရား
၌သွင်း၍ ကျွန်ခံစေဘူးသည် နည်းတူ၊ ယခုမှာ
ကိုယ်အင်္ဂါများကိုသန့်ရှင်းခြင်းအလိုငှါဖြောင့်
မတ်ခြင်းတရား၌ သွင်း၍ ကျွန်ခံစေကြသော့။–
၂၀ သင်တို့သည် အပြစ်တရား၏ကျွန်ဖြစ် စဉ် ကာ
လ၊ ဖြောင့် မတ်ခြင်းတရား၏ လက်မှ လွတ်ကြ
၂၁ ၏။– ယခုသင်တို့ရှက်ကြောက်သောထိုအကျင့်
တို့ကို ကျင့်စဉ်အခါ၊ အဘယ်အကျိုးကို ရကြ
သနည်း။ ထိုသို့သော အကျင့်သည် သေခြင်း၌
၂၂ ထမ်းဆုံးသတည်း။– ယခုမူကား၊သင်တို့သည်
အပြစ်တရား၏ လက်မှလွတ်၍၊ ဘုရားသခင်၏
ကျွန်ဖြစ်ကြသည်နှင့်အညီ၊ သန့်ရှင်းခြင်းအကျိုး
ကိုရကြ၏၊ အဆုံး၌သည်း၊ ထာဝရအသက်ကို
၂၃ ရကြလိမ့်မည်။– အပြစ်တရား၏အခကား သေ
ခြင်းပေတည်း။ဘုရားသခင်ပေးတော်မူသောဆု
ကျေးဇူး တော်ကား၊ ငါတို့ ထခင် ယေရှု ခရစ်
အားဖြင့်ထာဝရအသက်ပေတည်း။

## ၇

၁ ပညတ်တရားကိုသိသောညီအစ်ကိုတို့၊ပညတ်
တရားသည် လူကို အသက်ထက်ဆုံးမျှသာ ပိုင်
၂ သည်ကိုမသိကြသလော။– ဥပမာကား၊ခင်ပွန်းရှိ
သောမိန်းမသည်လင်မ[illegible]နှင့်ချည်နှောင်၍၊ ပညတ်
တရားအားဖြင့်ခင်ပွန်းနှင့်ချည်နှောင်လျက်ရှိ၏၊ခင်
၃ ပွန်းသေလျှင်မူကား၊ ခင်ပွန်းတရားနှင့် လွတ်၏။– ထို
ကြောင့်၊ မိမိခင်ပွန်းမသေမှီ အခြားသော သူ၏မ
ယားဖြစ်လျှင်၊ မျောက်မယားသောမိန်းမဟုခေါ်
ဆိုရ၏၊လင်သေလျှင်မူကား၊ထိုတရားနှင့်လွတ်
သည်ဖြစ်၍၊ အခြားသောသူ၏မယားဖြစ်သော်
လည်း၊ မျောက်မယားသော မိန်းမဟု ခေါ်ဝေါ်ရာအ
၄ ကြောင်းမရှိ။– ထိုနည်းတူ၊ငါ့ညီအစ်ကိုတို့၊ သင်
တို့သည် အခြားသော သူတည်းဟူသော၊ သေ
ခြင်းမှ ထမြောက်တော်မူသောသူ၏ မယားဖြစ်
၍၊ ဘုရားသခင်၏အလိုတော်နှင့်အညီ တိုးပွား
မည်အကြောင်း၊ ခရစ်တော်၏ ကိုယ်ခန္ဓာ အား
၅ ဖြင့်သေ၍ ပညတ်တရားနှင့် ကွာကြ၏။– ငါတို့
သည် ဇာတိပကတိ၌ ကျင်လည်သောအခါ၊ အ
ပြစ်နှင့်စပ်ဆိုင်သောစိတ်တို့သည် ပညတ်တရား
အားဖြင့်ပေါက်၍သေခြင်းတရား၏အလိုနှင့်အ
ညီတိုးပွားမည့်အကြောင်း၊ ငါတို့၏ကိုယ်အင်္ဂါ
၆ များ၌ ပြုမူကြ၏။– ယခုမူကား၊ကျမ်းစာ၌ ပါ
သော တရား ထောင်းကို မမှီဘဲ၊ ဝိညာဉ်တော်
တရားသစ်ကိုမှီ၍အမှုဆောင်ရွက်ခြင်းအလိုငှါ၊
ငါတို့သည် သေသဖြင့် အုပ်ချုပ် သော ပညတ်
တရား၏လက်မှလွတ်ခြင်းသို့ရောက်ကြပြီ။
၇ သို့ဖြစ်၍ အဘယ်သို့ပြောရမည်နည်း။ ပညတ်
တရား၌အပြစ်ရှိသလော၊ အပြစ်မရှိနိုင်ရာ၊ သို့
ရာတွင်၊ ပညတ် တရား အားဖြင့် သာ အပြစ်ထ
တောကိုငါသိရ၏။ အဘယ်သို့နည်း၊ ဟူမူကား၊
လောဘထ စိတ်မရှိစေနှင့် ဟု ပညတ် တရား မဆို
၈ လျှင်၊လောဘသတောကိုငါမသိ။–အပြစ်တရား
သည်ပညတ်တရားအားဖြင့်အခွင့်ရ၍၊ ငါ၌အ
မျိုးမျိုးသော လောဘ တို့ကို ဖြစ်စေ၏၊ ပညတ်
၉ တရားမရှိလျှင်၊အပြစ်တရားသေ၏။– အထက်
ကပညတ်တရားမရှိသဖြင့်၊ငါသည်အသက်ရှင်
၏။ ပညတ်တရားပေါ်သောအခါ၊ အပြစ်တရား
၁၀ သည်ရှင်ပြန်၏၊ ငါသည်သေ၏။– အသက်ရှင်
ခြင်းနှင့် ဆိုင်သော ပညတ်တရားသည် သေခြင်း
နှင့်ဆိုင်သည်ကို ငါတွေ့၏။– အပြစ်တရားသည်
ပညတ်တရားအားဖြင့်အခွင့်ရလျှင်၊ ငါ့ကိုလှည့်
၁၂ ဖြား၍ထိုတရားအားဖြင့်ငါ့ကိုသတ်လေ၏။– ထို
ကြောင့်၊ တရားတော်သည် သန့်ရှင်းခြင်းရှိ၏၊
ပညတ်တရားသည်လည်း သန့်ရှင်းခြင်း၊ ဖြောင့်မတ်
၁၃ ခြင်း၊ ကောင်းမြတ်ခြင်း ရှိ၏။– သို့ဖြစ်လျှင်၊
ကောင်းမြတ်သောအရာသည်ငါ၌ သေခြင်းအ

ကြောင်း၊ဖြစ်သထောအမဖြစ်နိုင်ရာ၊အဖြစ်တရား
သည်မိမိသဘောကိုထင်ရှား၊စေခြင်းငှါ ကောင်း
မြတ်သော အရာအား၊ဖြင့်၊ ငါ၌သေခြင်း၊ကို ပြု၍
သေ ခြင်း၊ အ ကြောင်း၊ ဖြစ် ၏၊ ထို သို့ ဖြစ် သော
ကြောင့် အပြစ် တရား၊သည် ပညတ် တော်အား၊
ဖြင့်၊အလွန်အပြစ်နှင့်ပြည့်စုံခြင်း၊ရှိသတည်း။
၁၄ ထိုမှတပါး၊ ပညတ်တရား၊သည် ဝိညည် ပက
တိနှင့် စပ်ဆိုင်သည်ကိုငါတို့သိကြ၏၊ ငါမူကား၊
ဓာတိ ပကတိရှိ၏၊ အပြစ် တရား၊ လက်၌ ကြေး
၁၅ ကျွန်ဖြစ်၏။- အကြောင်း၊မူကား၊၊ငါသည်ကိုယ်
ကျင့်သော အကျင့်ကို မနှစ်သက်၊ ကျင့်ချင်သော
အကျင့်ကိုမကျင့်၊ ရွံရှာသောအကျင့်ကိုကျင့်၏။-
၁၆ ထိုသို့ ငါသည် မ ကျင့်ချင်သောအကျင့်ကို ကျင့်
လျှင်၊ပညတ်တရား၊ကောင်သည်ဟုငါဝန်ခံ၏။-
၁၇ သို့ဖြစ်လျှင်၊ ထို မ ကောင်း၊သော အကျင့်ကို င
ကိုယ်တိုင်ကျင့်သည်မဟုတ်၊ ငအထဲ၌နေသော
၁၈ အပြစ်တရား၊သည်ကျင့်၏။- ငအထဲမှာငဓာတိ
ပကတိ၌ ကောင်း၊သော အရာတစုံတခုမျှ မတည်
သည်ကို ငါသိ၏၊ အကြောင်း၊မူကား၊၊ ငါ သည်
ကျင့် ချင်သော စိတ် ရှိ သော်လည်း၊၊ ကောင်း၊ စွာ
၁၉ ကျင့် တတ်သော အခွင့်ကိုရှာ၍ မတွေ့နိုင်။- ငါ
သည်ကျင့်ချင်သော အကျင့်ကောင်း၊ကိုမကျင့်၊ မ
၂၀ ကျင့်ချင်သော အကျင့်ဆိုး၊ကို ကျင့်၏။- ထိုသို့ငါ
သည်မကျင့်ချင်သော အကျင့်ကို ကျင့် လျှင်၊ င
ကိုယ်တိုင်ကျင့်သည်မဟုတ်၊ ငအထဲ၌နေသော
၂၁ အပြစ်တရား၊သည်ကျင့်၏။- ထိုသို့ကောင်း၊သော
အကျင့် ကို ငါ ကျင့်ချင် သောအခါ၊ မ ကောင်း၊
သော အကျင့်ကိုကျင့်စေတတ်သောတရား၊ကိုငါ
၂၂ တွေ့၏။- ငါသည် အတွင်း၊ လူ အား၊ဖြင့်၊ ဘုရား၊
၂၃ သခင်၏ ပညတ်တရား၊တော်ကိုနှစ်သက်၏။- သို့
သော်လည်း၊၊ ငကိုယ်အင်္ဂါများ၊၌ ရှိသောတရား၊
တပါး၊သည်စိတ်ဝိညည်တရား၊ကိုဆိုင်ပြိုင်တိုက်
လှန်သဖြင့်၊ ငကိုယ်အင်္ဂါများ၊၌ ရှိသော အပြစ်
တရား၊လက်သို့ငကိုဖမ်း၊သွား၊အပ်နှံသည်ကိုငါ
၂၄ မြင်၏။- ငါသည်ပြိုပြင်သောသူ ဖြစ် ပါသည်တ
ကား၊၊ ဤအသေကောင်မှ ငကို အဘယ်သူကယ်
၂၅ ထွတ်မည်နည်း၊၊- ငါတို့သခင် ယေရှုခရစ်အား၊
ဖြင့် ကယ် လွှတ် တော်မူ သော ဘုရား၊သခင် ၏
ကျေး၊ဇူး၊ တော် ကြီး၊ လှပေ၏၊ ထိုသို့ စိတ်ဝိညည်
အား၊ဖြင့် ဘုရား၊ သခင် ၏ တရား၊ တော် အလိုသို့
ရှင်၊ ဓာတိပကတိ အား၊ဖြင့် အပြစ်တရား၊ အလို
သို့ရှင်ငါလိုက်တတ်၏၊

၈

၁ ဘုရား၊သခင် ကယ်လွှတ်တော်မူသောကြောင့်
ယေရှုခရစ်၌ တည်၍၊ ဓာတိ ပကတိ အလိုအ
ကျင့်၊ ဝိညည်ပကတိ အလိုင်၊ ကျင့်သော သူတို့
၂ သည်အပြစ်စီရင်ခြင်း၊နှင့်လွတ်ကြ၏။-ယေရှုခရစ်
၌တည်၍ အသက် ရှင်စေ သော ဝိညည် တော်၏
တရား၊သည်အပြစ်တရား၏ထုံးထမ်မှုနှင့်၊ သေခြင်း
၃ တရား၏ထုံးမှုရင်ငကိုကယ်လွှတ်ပြီ။- ဓာတိ
ပကတိကြောင့်ပညတ်တရား၊သည်အား၊နည်း၍
မတတ်နိုင်သော အမှုကို ဘုရား၊သခင်ပြုတော်မူ
ခြင်း၊ငှါ၊ အပြစ်နှင့်ပြည့်စုံသော ဓာတိပကတိ၏
သဏ္ဍာန်ကို ဆောင်သော မိမိ သား၊တော်ကို စေ
လွှတ်တော်မူ၍၊ အပြစ်ဖြေခြင်းငှါ ဓာတိပကတိ၌
၄ အပြစ်ကို ဒဏ် ပေး၊တော် မူ၏။- အကြောင်း၊မူ
ကား၊၊ဓာတိပကတိအလိုင်၊မကျင့်၊ ဝိညည်ပက
တိအလိုင်၊ ကျင့်သော ငါတို့သည်၊ တရား၌ ဟ
သောပညတ်တို့ကိုစောင့်ရှောက်မည့်အကြောင်း၊
၅ တည်း၊၊-ဓာတိပကတိရှိသောသူတို့သည်ဓာတိ
ပကတိ နှင့် စပ်ဆိုင် သော အရာ တို့ကို စွဲလမ်း၊
သောစိတ်သဘောရှိကြ၏၊ဝိညည်ပကတိရှိသော
သူတို့မူကား၊၊ ဝိညည် ပကတိနှင့် စပ်ဆိုင်သော
အရာတို့ကို စွဲလမ်း၊သောစိတ်သဘောရှိကြ၏။-
၆ ဓာတိ ပကတိ စိတ် သ ဘော သည် သေ ခြင်း၊ အ
ကြောင်း၊ဖြစ်၏၊ ဝိညည်ပကတိစိတ်သဘောသည်
အသက် ရှင်ခြင်း၊ အကြောင်း၊နှင့် ငြိမ်သက်ခြင်း၊
၇ အကြောင်း၊ ဖြစ်၏၊- အဘယ်ကြောင့် နည်း၊ဟူ
မူကား၊၊ ဓာတိပကတိစိတ်သဘောသည်ဘုရား၊
သခင်နှင့် ဆန့်ကျင် ဘက်ဖြစ်၏၊ ဘုရား၊ သခင်၏
တရား၊တော်အလိုသို့မလိုက်တတ်၊ ထိုမျှမက မ
၈ လိုက်နိုင်။- ထိုကြောင့်၊ ဓာတိ ပကတိ၌ ကျင်
လည်သောသူတို့သည်ဘုရား၊သခင်၏စိတ်တော်
၉ နှင့်မတွေ့နိုင်ကြ၊-သို့သော်လည်း၊ဘုရား၊သခင်
၏ ဝိညည်တော်သည် သင်တို့အထဲ၌ ကျိန်း၊ဝပ်
တော်မူလျှင်၊ သင်တို့သည်ဓာတိပကတိအထဲ၌
ရှိကြသည်မဟုတ်၊ ဝိညည်ပကတိအထဲ၌ရှိကြ
၏၊ ခရစ်တော်၏ဝိညည်ကိုမရသောသူမည်သည်
၁၀ ကား၊၊ ခရစ်တော်နှင့်မဆိုင်။- ခရစ်တော်သည်
သင်တို့အထဲ၌ရှိတော်မူလျှင်၊ကိုယ်ကာယသည်
အပြစ်ကြောင့်အသေဖြစ်သော်လည်း၊ဝိညည်မူ
ကား၊ဖြောင့်မတ်ခြင်း၊ကြောင့် အသက်ရှင်လျက်
၁၁ ရှိ၏။- ထိုမျှမက၊ယေရှုကိုသေခြင်းမှထမြောက်
စေတော်မူသောဘုရား၊၏ဝိညည်တော်အသည်သင်

ထိုအထဲ၌ကျိန်းဝပ်တော်မူလျှင်၊ ခရစ်တော်ကို
သေခြင်းမှ ထမြောက်စေတော်မူသော ဘုရား
သည်၊ သင်တို့အထဲ၌ကျိန်းဝပ်သောမိမိဝိညာဉ်
တော်အားဖြင့်၊ သေတတ်သော သင်တို့၏ကိုယ်
အသက်ကိုပင်ရှင်စေတော်မူမည်။
၁၂ ထို့ကြောင့်ညီအစ်ကိုတို့၊ ငါတို့သည်ဇာတိပက
တိအတိုင်းကျင့်ရမည့်အကြောင်း၊ ဇာတိပကတိ
၁၃ ၏ကျွန်ဖြစ်ကြသည်မဟုတ်။-သင်တို့သည်ဇာတိ
ပကတိအတိုင်း၊ အသက်ရှင်လျှင်သေရကြမည်။
ဝိညာဉ်တော်အားဖြင့်ကိုယ်ကာယ၏အကျင့်တို့
၁၄ ကိုသေစေလျှင်အသက်ရှင်ကြလိမ့်မည်။- ဘုရား
သခင်၏ဝိညာဉ်တော်ဆွဲဆောင်တော်မူသမျှ
သောသူတို့သည်ဘုရားသခင်၏သားဖြစ်ကြ၏။-
၁၅ အကြောင်းမူကား၊ သင်တို့သည်တဖန်ကြောက်
ရွံ့တတ်သော ကျွန်၏ သဘောကို ရကြသည် မ
ဟုတ်၊ အဗ္ဗ၊ အဘ ဟုခေါ်ရသော အခွင့်နှင့် သား
၁၆ ဖြစ်ခြင်း၏ သဘောကို ရကြပြီ။- ငါတို့သည်
ဘုရားသခင်၏သားဖြစ်ကြသည်ဟုဝိညာဉ်တော်
သည် ငါတို့၏ဝိညာဉ်နှင့် အတူသက်သေခံတော်
၁၇ မူ၏။-သားမှန်လျှင်အမွေခံ၊ ဘုရားသခင်၏အမွေ
ခံဖြစ်ကြ၏၊ ခရစ်တော်နှင့် အတူ တုန်၊ ဝင်စား
မည်အကြောင်း၊ ထိုသခင်နှင့်အတူဆင်းရဲဒုက္ခ
ကိုခံရလျှင်၊ ထိုသခင်နှင့်ဆက်ဆံသော အမွေခံ
တည်းဖြစ်ကြ၏။
၁၈ ငါတို့အား ပေါ်ထွန်းလတံ့သော ဘုန်းကို
ထောက်သော်၊ ယခု ပစ္စုပ္ပန် ကာလ၌ ခံရ
သောဆင်းရဲဒုက္ခကို ပမာဏမပြုထိုက်ဟု ငါထ
၁၉ င်မှတ်၏။- ဤလောကသည် ဘုရားသခင်သား
တို့၏ပေါ်ထွန်းခြင်း အရာကို အဆွန် တောင့်တ
၂၀ မျှော်လင့်လျက်နေ၏။- ဤလောကသည် အနိစ္စ
၂၁ နိုင်ငံသို့အလိုလိုလိုက်သည်မဟုတ်။-ဘုရားသခင်
သားတို့၏ ထူးမြတ်သော လွတ်ခြင်း ချမ်းသာ
သည်၊ ဤလောက၊ ဖောက်ပြန်ပျက်စီးခြင်း အ
နှောင်အဖွဲ့မှကယ်လွတ်ခြင်းချမ်းသာကိုဝင်စား
မည်ဟု မျှော်လင့်ရသောအခွင့်ကိုပေး၍၊ အနိစ္စ
နိုင်ငံသို့ လိုက်စေတော်မူသော သူ၏အလိုတော်
၂၂ ကြောင့်သာ လိုက်ရ၏။- ဤလောကတနိုင်ငံလုံး
သည် ယခုတိုင်အောင် တညီတညွတ်တည်း
ညည်းတွား၍ ဆင်းရဲခြင်း ဝေဒနာကို ခံရသည်
၂၃ ဟု ငါတို့ သိကြ၏။- ထိုမျှမက၊ ဝိညာဉ်တော်၏
ရှေ့ဦးတော် အစအဦးကို ခံပြီးသော ငါတို့
ကိုယ်တိုင်လည်း၊ သားအရာ၌ ချီးမြှောက်ခြင်းအ
ကြောင်းအရာ၊ တည်းဟူသော ကိုယ်ခန္ဓာရွေးနှုတ်
ခြင်းကျေးဇူးကို မျှော်လင့်၍၊ မိတ်နှစ်လုံးအထဲ
၂၄ ၌ညည်းတွားလျက်နေကြ၏။- ငါတို့သည် မျှော်
လင့်ခြင်းအားဖြင့် ကယ်တင်တော်မူခြင်းသို့
ရောက်ကြ၏။ မျှော်လင့်သော အရာကို တွေ့မြင်
လျှင်၊ မျှော်လင့်ရာ အကြောင်းမရှိ၊ တွေ့မြင်
သောအရာကို အဘယ်ကြောင့်မျှော်လင့်ရမည်
၂၅ နည်း။-ငါတို့သည်မတွေ့မမြင်သောအရာကိုမျှော်
လင့်လျှင်မူကား၊ ထိုအရာကိုသည်းခံသောမိတ်
၂၆ နှင့်ငံ့လင့်၍နေကြ၏။- ထိုမှတပါး၊ ငါတို့မတတ်
နိုင်သော အရာမှာဝိညာဉ်တော်သည် မစတော်
မူ၏၊ငါတို့သည်ဆုတောင်းသင့်သည်အတိုင်းအဘ
ယ်ဆုကို တောင်းရမည်ကို မသိကြ။ ထိုအရာ
တွင်၊ ငါတို့ ဆုတောင်းခြင်းအမှုကို နှုတ်မမြွက်
နိုင်သော ညည်းတွားခြင်းအားဖြင့်၊ ဝိညာဉ်
၂၇ တော်သည် စောင့်မတော်မူ၏။- မိတ်နှစ်လုံးကို
စစ်တော်မူသောသူသည်လည်း၊ ဝိညာဉ်တော်၏
မိတ်သဘောကိုသိတော်မူ၏၊ အကြောင်းမူကား၊
ဝိညာဉ်တော်သည် သန့်ရှင်းသူတို့၏ ဆုတောင်း
ခြင်းအမှုကိုဘုရားသခင်၏အလိုတော်နှင့်အညီ
စောင့်မတော်မူ၏။
၂၈ ဘုရားသခင်ကို ချစ်သော သူတည်း၊ ဘုရားသခင်
ကြံစည်တော်မူခြင်းအတိုင်း ခေါ်တော်မူသော
သူတို့၏အကျိုးကို ခပ်သိမ်းသောအရာတို့သည်
တညီတညွတ်တည်း ပြုစုကြသည်ကို ငါတို့သိ
၂၉ ကြ၏။- ဘုရားသခင်၏ သားတော်သည် အ
များသော ညီတို့တွင် သားဦးဖြစ်တော်မူမည် အ
ကြောင်း၊ ဘုရားသခင်သည်ရှေးမဆွကသိတော်မူ
သောသူတို့ကို သားတော်၏ပုံသဏ္ဍာန်နှင့်အညီ
တည်းဖြစ်စေခြင်းငှါ၊ ရှေးမဆွကခွဲခန့်မှတ်သား
၃၀ တော်မူ၏။- ထိုသို့ခွဲခန့်မှတ်သားနှင့်သောသူတို့
ကို ခေါ်တော်မူ၏၊ ခေါ်တော်မူသော သူတို့ကို
လည်း၊ ဖြောင့်မတ်ရာ၌တည်စေတော်မူ၏၊ ထိုသို့
တည်စေတော်မူသောသူတို့ကိုလည်း ချီးမြှောက်
တော်မူ၏။
၃၁ သို့ဖြစ်၍၊ ဤအရာများတို့၌ အဘယ်သို့ပြော
ရာရှိသနည်း၊ဘုရားသခင်သည်ငါတို့ဘက်၌ရှိ
တော်မူလျှင်၊ အဘယ်သူသည်ငါတို့တဘက်၌ရ
၃၂ နိုင်ပြည်နည်း။-မိမိသားတော်ရင်းကိုမနှမြော
ဘဲ၊ ငါတို့ရှိသမျှအဘို့အလိုငှါ စွန့်တော်မူသော
သူသည်၊ သားတော်နှင့်တကွ ခပ်သိမ်းသော အ
ရာတို့ကိုငါတို့အားမပေးဘဲ အဘယ်သို့နေတော်

၃၃ ရွေးချယ်ခြင်း။- ဘုရားသခင် ရွေးကောက်တော်မူ
သောသူတို့ကို အဘယ်သူသည် အပြစ်တင်မည်
နည်း။ ဖြောင့်မတ်ရာ၌ တည်စေသောသူကား
၃၄ ဘုရားသခင်ပေတည်း။-အပြစ်စီရင်သောသူကား
အဘယ်သူနည်း၊ အသေခံ၍ ခံသည်သာမက၊
ထမြောက်၍ ဘုရားသခင်၏ လက်ျာ
တော် ထက်၌ နေလျက်၊ ငါတို့အဖို့ ဆုတောင်း
၃၅ သောသူကား၊ ခရစ်တော်ပေတည်း။- ခရစ်တော်
၏ချစ်ခြင်း မေတ္တာနှင့်ငါတို့ကိုအဘယ်သူကွာစေ
၃၆ မည်နည်း။-အကယ်စင်စစ်ကိုယ်တော်အတွက်
အကျွန်ုပ် တို့သည် အစဉ်မပြတ် အသေသတ်
ခြင်းကိုခံရကြပါ၏၊သတ်ဖို့ရာထားသောသိုးကဲ့
သို့ အကျွန်ုပ် တို့ကို သူတပါး မှတ်တတ်ကြပါ၏
ဟု၊ ကျမ်းစာထားသည်နှင့် အညီ ဆင်းရဲ ငြိုငြင်
ခြင်း၊ညှဉ်းဆဲနှိပ်စက်ခြင်း၊ နှုတ်သိပ်ခြင်း၊ အ
ဝတ်အစားညည်းမရှိခြင်း၊ဘေးနှင့်တွေ့ကြုံခြင်း၊
ကွပ် မျက်ခြင်း ကို ခံရသော်လည်း၊ ထိုအမှု တို့
တွင် အဘယ်အမှုသည် ခရစ်တော် ၏ ချစ်ခြင်း
မေတ္တာ တော်နှင့် ငါတို့ကို ကွာစေမည် နည်း။-
၃၇ မကွာစေ သည် သာမက၊ ငါ တို့ကို ချစ်တော် မူ
သောသူ၏ကျေးဇူးတော်ကြောင့်၊ငါတို့သည်ထို
အမှုခပ်သိမ်းတို့ကို ခံစဉ်တွင်ပင် အထူးသဖြင့်
၃၈ အောင်မြင်ကြ၏။- အကြောင်းမူကား၊ သေခြင်း
ဖြစ်စေ၊ အသက်ရှင်ခြင်းဖြစ်စေ၊ ကောင်းကင်တ
မန်ဖြစ်စေ၊ အထွဋ်အမြတ်ဖြစ်စေ၊ အာဏာတန်
ခိုးဖြစ်စေ၊ ရှက်မှောက်အရာဖြစ်စေ၊ နောင်လာ
၃၉ လတ္တံ့သော အရာဖြစ်စေ၊- အမြင့်ဖြစ်စေ၊ အနိမ့်
ဖြစ်စေ၊ ဤအရာမှစ၍ အဘယ် နိမိတ္တ အရာ မှု
သည်၊ ငါတို့သခင်ယေရှုခရစ်အားဖြင့်ခံရသော
ဘုရားသခင်၏မေတ္တာတော်နှင့်ငါတို့ကိုမကွာစေ
နိုင်ဟု၊ငါသည်သဘောကျလျက်ရှိ၏။

၉

၁ ငါ့ကိုယ်ကိုယ်သိသောစိတ်သည် သန့်ရှင်း
သောဝိညာဉ်တော်နှင့်တကွ သက်သေ ခံလျက်၊ ငါသည်မုသာမပါ၊ခရစ်တော်ရှေ့၌မှန်
၂ ကန်စွာပြောသည်ကား၊- ငါသည် အလွန်ဝမ်း
နည်းခြင်းရှိ၏။ စိတ်နှလုံးထဲ၌ မပြတ် မထစ် ပူ
၃ ပန်ခြင်းဝေဒနာရှိ၏။-အကြောင်းမူကား၊ ဇာတိ
အားဖြင့်အမျိုးသားချင်းဖြစ်သော ညီအစ်ကို
တို့အတွက်၊ ငါသည် ကိုယ်တိုင် ခရစ်တော် နှင့်
ကွာ၍ ကျိန်ခြင်းကို ခံချင်လောက် အောင် စိတ်ရှိ
၄ ၏။-ထိုသူတို့သည်ဣသရေလလူဖြစ်၍၊ သားအ
ရာ၌ ချီးမြှောက်ခြင်းနှင့်ဆိုင်၊ ဘုန်းအသရေတော်
တော်နှင့်ဆိုင်၊ ပဋိညာဉ်တရားတို့နှင့်ဆိုင်၊ ပညတ်
တရားထားခြင်းနှင့်ဆိုင်၊ဝတ်ပြုခြင်းနှင့်ဆိုင်၊ဂတိ
၅ တော်တို့နှင့်ဆိုင်ကြ၏။- ဘိုးဘေးများတို့နှင့်
ဆက်နွယ်သောသူလည်းဖြစ်ကြ၏၊ ခရစ်တော်
သည်လည်း၊ ဇာတိ အမျိုးအားဖြင့် ထိုသူတို့၏
အမျိုးဖြစ်တော်မူ၏၊ ထိုခရစ်တော်သည်လည်း
ခပ်သိမ်းသောအရာတို့ကို အစိုးရတော်မူ၍ထာ
ဝရမင်္ဂလာရှိတော်မူသောဘုရားသခင်ဖြစ်တော်
မူ၏၊ အာမင်။
၆ ထိုသို့ ဆိုသော် ဘုရားသခင်၏ ဂတိ တော်စ
တည်ဟုငါမဆိုလို၊ အကြောင်းမူကား၊ ဣသရေ
လနှင့် ဆက်နွယ်သောသူအပေါင်းတို့သည် ဣ
၇ သရေလလူမှန်မဟုတ်။- ထို့နည်းတူ၊ အာဗြဟံ
၏အမျိုးအနွယ်ဖြစ်သော သူအပေါင်းတို့သည်
အာဗြဟံ၏သားမှန်မဟုတ်၊ ဣဇာက်၌သာသင်
၈ ၏အမျိုးတည်ဟုလိမ့်မည်ဟုလာပိတ်တော်ရှိ၏။- ထို
ကြောင့်၊ဇာတိအမျိုးသားတို့သည်ဘုရားသခင်
၏သားမှန်မဟုတ်၊ဂတိတော်နှင့်ဆိုင်သောသား
တို့သည် အမျိုးအနွယ် မှန်သည်ဟုမှတ်တော်မူ
၉ ၏။-ဂတိတော်အရွတ်ဟူမူကား၊လာမည့်နှစ်ယခု
ထ အချိန် ရောက်သောအခါ၊ ငါလာ၍ စာရာသည်
၁၀ သားကိုရလိမ့်မည်ဟုထားသတည်း။-ထို့မှတပါး
ရေဗက္ကသည် ငါတို့အဘ ဣဇာက်နှင့် စုံဖက်၍
၁၁ ပဋိသန္ဓေ ယူ သော အခါ၊- ဘုရား သခင် ရွေး
ကောက် တော်မူခြင်းနှင့် ဆိုင်သော အကြံတော်
သည်အကျင့်အားဖြင့်မတည်၊ခေါ်တော်မူသော
သူ၏အလိုတော်အားဖြင့်တည်မည်အကြောင်း၊
သားမဖွားမှီ ထိုသားတို့သည် ကောင်းသောအ
၁၂ ကျင့်၊ မကောင်းသောအကျင့်ကိုမကျင့်မှီ၊- သား
အကြီးသည် သား အငယ်၌ ကျွန်ခံ ရလိမ့်မည်
၁၃ ဟု၊ထိုမိန့်အားမှာပိတ်ပေးတော်မူ၏။-ထိုသို့နှင့်
အညီ၊ယာကုပ်ကိုငါချစ်၏၊ ဧသောကိုမုန်း၏ဟု
ကျမ်းစာထားသတည်း။
၁၄ ထိုသို့ဖြစ်၍၊အဘယ်သို့ပြောရမည်နည်း။ဘုရား
သခင်သည် မတရားသော အမှုကို ပြုတော်မူသ
၁၅ လော၊ထိုသို့မပြောရ။-ဘုရားသခင်က၊ ငါသည်
ကျေးဇူးပြုလိုသောသူကိုကျေးဇူးပြုမည်၊သနား
လိုသောသူကိုလည်း၊သနားမည်ဟု၊ မောရှေကို
၁၆ မိန့်တော်မူ၏၊-ထိုကြောင့်၊ ထိုချင်သောသူသည်
ထတ်နိုင်သည်မဟုတ်၊ပြေးသောသူသည်လည်း
ထတ်နိုင်သည်မဟုတ်၊ကျေးဇူးပြုတော်မူသော

၁၇ ဘုရားသခင်သည်ကျမ်းစာ၌ဖာရောဘုရင်ကို ဆိုသည်ကား၊ ငါ၏တန်ခိုး
ကိုသင်၌ ငါပြခြင်း၊ ငါ့ရှင်၊ ငါ့နာမကို မြေကြီးတ
ပြင်လုံး၌ ကျော်စောစေခြင်း ငါ့ရှင်း၊ သင့်ကို
၁၈ ချီးမြှောက်ခဲ့ပြီဟု ဆိုသတည်း။ ထိုသို့နှင့်အ
ညီ၊ ကျေးဇူးပြုလိုသောသူကို ကျေးဇူးပြုတော်
မူ၏၊ ခိုင်မာစေလိုသော သူကိုလည်း ခိုင်မာစေ
တော်မူ၏။
၁၉ ထိုဖြစ်လျှင်၊ဘုရားသခင်သည်အဘယ်ကြောင့်
အပြစ်တင်တော်မူသေးသနည်း၊ အဘယ်သူ
သည် အလိုတော်ကိုဆီးတားဘူးသနည်းဟု ဆို
၂၀ မည်လော။ ဘုရားသခင်ကို ငြင်းဆန်သောအ
ချင်းလူ၊ သင်သည်ကား အဘယ်သူနည်း။ လုပ်
အပ်သောအရာသည် လုပ်တတ်သောသူအား၊
အဘယ်ကြောင့် ငါ့ကို ဤသို့လုပ်သနည်းဟု ဆိုရ
၂၁ မည်လော။ အိုးထိန်းသမားသည် အိုးမြေကိုပိုင်
သည် မဟုတ်လော၊ အိုးမြေတပုံတည်းနှင့် အိုး
မြတ်၊ အိုးယုတ်ကိုလုပ်ပိုင်သည်မဟုတ်လော။
၂၂ ဘုရားသခင်သည်မိမိအမျက်တော်ကိုပြ၍၊ တန်
ခိုးတော်ကို ထင်ရှားစေခြင်းငှါ အလိုတော်ရှိ
လျှက်၊ ပျက်စီးခြင်းအမှို့ ပြင်ဆင်သောအမျက်ခံ
ရာ အိုးများ ထို့ကို အလွန်သည်းခံခြင်း၊ ခန္တီနှင့်
သည်း ခံတော်မူသည် မှန်လျှင်၊ အဘယ် ပြော
၂၃ ဘွယ်ရှိဘို့နည်း။ ချီးမြှောက်ခြင်းအမှို့ ပြင်ဆင်
တော်မူနှင့်သော ကရုဏာ ခံရာ အိုးများ တည်း
၂၄ ဟူသော၊ ယုဒအမျိုးသားတို့အထဲမှ သာမ
ဟုတ်၊ တပါးအမျိုးသားတို့အထဲမှ ပရောဖက်
ဟောရှေဆိုသည်အတိုင်း ခေါ်တော်မူသော ငါ
တို့၌၊ ဘုန်းအသရေ တော် ကြွယ်ဝခြင်းကို
ထင်ရှားစေခြင်းငှါပြုတော်မူသည်မှန်လျှင်၊ အ
၂၅ ဘယ်ပြောဘွယ်ရှိဘို့နည်း။ ဟောရှေ၏ကျမ်း
စာ၌ပါသည်ကား၊ ငါ၏လူမဟုတ်သော သူကို
ငါ၏လူဟူ၍ ငါခေါ်မည်၊ မချစ်သော သတို့သမီး
၂၆ ကိုလည်း၊ အချစ်ဟူ၍ငါခေါ်မည်။ သင်တို့သည်
ငါ၏လူမဟုတ်ဟု ပြောဆိုရာအရပ်၌ နေသော
သူတို့ သည်၊ အသက် ရှင်တော်မူသော ဘုရား
သခင်၏သားဟုခေါ်ဝေါ်ခြင်းကိုခံရကြလိမ့်မည်
၂၇ ဟု ထားသတည်း။ ပရောဖက်ဟေရှာယသည်
လည်း၊ ဣသရေလအမျိုးကို ရည်မှတ်၍ ကြွေး
ကြော်သည် ကား၊ ဣသရေလ အမျိုးသားတို့
သည်သမုဒ္ဒရာသဲလုံးနှင့်အမျှများသော်လည်း၊
ကြွင်းသောသူတို့သာလျှင်ကယ်တင်တော်မူခြင်း
၂၈ သို့ရောက်ကြလိမ့်မည်။ အမှုတော်ကိုတရားသ
ဖြင့်ပြီးပြေစေခြင်းငှါ လုံးဖြတ်တော်မူမည်၊ ထာ
ဝရဘုရားသခင်မြေပေါ်မှာဆုံးဖြတ်တော်မူသော
၂၉ အမှုကို ပြုတော်မူလိမ့်မည်ဟု ဆိုသတည်း။ ထို
ဆိုနှင့်အညီ၊ ဟေရှာယသည်အထက်ကဆိုပြန်
သည်ကား၊ ကောင်းကင်ဗိုလ်ခြေ အရှင်ထာဝရ
ဘုရားသည်ငါတို့၌ မျိုးစေ့ကိုကြွင်းစေတော်မမူ
လျှင်၊ငါတို့သည်သောဒုံမြို့ကဲ့သို့ဖြစ်၍ ဂေါမော
ရမြို့နှင့်တူကြပြီ။
၃၀ ထိုကြောင့်၊ အဘယ်သို့ပြောရမည်နည်းဟူမူ
ကား၊ ဖြောင့်မတ်ခြင်းကိုမှီအောင်မလိုက်သော
တပါးအမျိုးသားတို့သည်ဖြောင့်မတ်ခြင်းကိုမှီ
ကြ၏။ ထိုသို့ဆိုသော်၊ ယုံကြည်ခြင်းအားဖြင့်မှီ
၃၁ သောဖြောင့်မတ်ခြင်းကိုဆိုလိုသတည်း။ ဖြောင့်
မတ်ခြင်းတရားကို မှီအောင်လိုက်သောဣသရေ
လ လူတို့မူကား၊ ဖြောင့် မတ်ခြင်း တရားကို မမှီ
၃၂ ကြ။ အဘယ်ကြောင့်မမှီကြသနည်း။ ယုံကြည်
ခြင်းအားဖြင့် မလိုက်၊ ပညတ်တရား၏ အကျင့်
၃၃ အားဖြင့် သာလိုက်ကြသတည်း။ ကျမ်းစာ၌
ပါသည် ကား၊ ထိမိ၍ လဲစရာ ကျောက်၊ မှား
ယွင်းစရာကျောက်ကို ဇိအုန်တောင်ပေါ်မှာ ငါချ
ထား၏။ ထိုကျောက်ကိုအမှီပြုသောသူမည်သည်
ကား၊ ရှက်ကြောက်ခြင်းမရှိနိုင်ရာဟုထားသည်
နှင့်အညီ၊ ထိုကျောက်ကို ဣသရေလလူတို့သည်
ထိမိ၍လဲကြ၏။

၁၀

၁ ညီအစ်ကိုတို့၊ ဣသရေလ လူတို့ သည် ကယ်
တင်တော်မူခြင်းသို့ရောက်စေခြင်းငှါ၊ငါ၏စေတ
နာအလိုရှိ၍ ဘုရား သခင်ကို ဆုတောင်းလျှောက်
၂ ၏။ ထို သူတို့ သည် မှန်သော ပညာ မရှိသော်
လည်း၊ ဘုရားသခင်ထက်၌စိတ်အားကြီး သည်
၃ ဟု၊ သူတို့အဖို့ ငါသက်သေခံ၏။ ထိုသူတို့ သည်
ဘုရားသခင်၏ဖြောင့်မတ်ခြင်းတရားကိုမသိ ဘဲ
ကိုယ် ဖြောင့်မတ်ခြင်းကို တည် စေခြင်းငှါ ရှာ
ကြံ သော ကြောင့်၊ ဘုရား သခင်၏ ဖြောင့် မတ်
၄ ခြင်းတရားကိုဝန်မခံကြ။ ယုံကြည်သောသူအ
ပေါင်းတို့သည်ဖြောင့်မတ်ရာသို့ ရောက်မည်အ
ကြောင်း၊ ပညတ်တရား သည် ခရစ်တော်အား
၅ ဖြင့် စုံထင်ခြင်းရှိ၏။ မောရှေ ကလည်း၊ ထိုအ
ကျင့်ကို ကျင့်သောသူသည် ထိုအကျင့်အားဖြင့်
အသက်ရှင်လိမ့်မည်ဟု၊ ပညတ်တရားနှင့် စပ်
ဆိုင်သောဖြောင့်မတ်ခြင်းတရားကို ရည်မှတ်၍

၆ ရေးထားသတည်း။- ယုံကြည်ခြင်းနှင့်စပ်ဆိုင်
သော ဖြောင့် မတ် ခြင်း တရား ဆို သည် ကား၊-
၇ ကောင်းကင် သို့ အဘယ်သူတက်လိမ့်မည်နည်း၊
နက်နဲရာထဲသို့ အဘယ်သူ ဆင်းလိမ့်မည်နည်း
ဟူ၍ စိတ်ထဲမှာမအောင်းမေ့နှင့်ဟု ဆို၏၊ ထိုသို့ဆို
သော်၊ ခရစ်တော်ကိုဆောင်ချခြင်းငှါကောင်းကင်
သို့ အဘယ်သူတက်လိမ့်မည်နည်း၊ ခရစ်တော်
ကိုသေခြင်းမှထမြောက်စေခြင်းငှါ၊ နက်နဲရာထဲ
သို့ အဘယ်သူဆင်းလိမ့်မည်နည်းဟု ဆိုလိုသ
၈ တည်း။-တဖန် ဆို သည်ကား၊ တရားတော်သည်
သင်နှင့်နီး၏၊ သင်၏နှုတ်၌၎င်း၊ သင်၏ နှစ်လုံး၌
၎င်းရှိသည်ဟုဆို၏။ ထိုသို့ဆိုသော်၊ ငါတို့ဟော
သောယုံကြည်ခြင်းတရားကို ဆိုလိုသတည်း။-
၉ အဘယ်သို့နည်းဟူမူကား၊ သင်သည်သခင်ယေ
ရှုကိုနှုတ်ဖြင့်ဝန်ခံ၍၊ ဘုရားသခင်သည်သူကို
သေခြင်းမှ ထမြောက် စေတော်မူပြီဟု စိတ် နှစ်
လုံးထဲ၌ယုံကြည်လျှင်၊ ကယ်တင်ခြင်းသို့ရောက်
၁၀ လိမ့်မည်။- ဖြောင့်မတ်ရာသို့ရောက်ခြင်းငှါစိတ်
၁၁ နှစ်လုံးဖြင့် ယုံကြည် ရ၏။- ကယ်တင် ခြင်းသို့
ရောက်ခြင်းငှါ နှုတ်ဖြင့်ဝန်ခံရ၏။ ကျမ်းစာလာ
သည်ကား၊ ထိုကျောက်ကို အမှီပြုသော သူမည်
သည်ကား၊ ရှက်ကြောက်ခြင်းမရှိနိုင်ရာဟုလာ
၁၂ သတည်း။- ယုဒအမျိုး၊ ဟေလသ အမျိုးကိုမ
ခွဲ။ လူအပေါင်းတို့ကို အစိုးရသော အရှင်တ
ပါးတည်းရှိ၍၊ ကိုယ်တော်ကိုပဌနာပြုသောသူ
အပေါင်း တို့ ၌ ကျေးဇူး ကြွယ် ဝ တော် မူ ၏။-
၁၃ အကြောင်းမူကား၊ ထာဝရ ဘုရားကို ပဌနာ ပြု
သောသူ ရှိ သမျှတို့သည် ကယ်တင်တော် မူ ခြင်း
သို့ရောက်ရကြ လတံ့။
၁၄ သို့ရာတွင်၊ မယုံကြည်ဘဲလျှင်အဘယ်သို့ပဌနာပြု
နိုင်မည်နည်း၊ သိတင်းမကြားလျှင်၊ အဘယ်သို့
ယုံကြည်နိုင်မည်နည်း၊ ဟောပြောသောသူမရှိ
၁၅ လျှင်၊ အဘယ်သို့ကြားနိုင်မည်နည်း။-လူကိုမစေ
လွှတ်လျှင်အဘယ်သို့ ဟောပြောနိုင်မည်နည်း။
ထိုသို့ နှင့် အညီ ကျမ်း စာ လာ သည် ကား၊ ငြိမ်
သက်ခြင်း၏ဝမ်းမြောက်စရာသိတင်း၊ ကောင်း
ကျိုး ချမ်းသာ ၏ ဝမ်း မြောက် စရာ သိတင်း ကို
ကြားပြော သော သူ ၏ ခြေတို့သည် အလွန် တင့်
၁၆ တယ် စွတကား ဟု လာ သ တည်း။- သို့သော်
လည်း၊ လူအပေါင်းတို့သည် ဝမ်းမြောက် စရာ
သိတင်းကို နားထောင်ကြသည် မဟုတ်။ ပရော
ဖက် ဟေရှာယ စကား ဟူ မူ ကား၊ အိုထာဝရ
ဘုရား၊ အကျွန်ုပ်တို့ ဟောပြော သော သိတင်း
၁၇ စကားကိုအဘယ်သူယုံပါသနည်းဟု ဆို၏။-သို့
ဖြစ်၍၊ ယုံကြည်ခြင်းသည်ကြားနာခြင်းအားဖြင့်
ဖြစ်၏။ ကြားနာခြင်းသည်လည်း၊ ဘုရားသခင်၏
၁၈ စကားတော်အားဖြင့်ဖြစ်၏။- သို့ရာတွင်၊ လူအ
ပေါင်းတို့သည်မကြားရကြပြီလော။ အမှန်ကြား
ရကြပြီ။ သူတို့၏အသံသည် မြေတပြင်လုံး၌ နှံ့
ပြား၍၊ သူတို့၏ စကားသည် မြေကြီးစွန်း တိုင်
၁၉ အောင် ရောက်လေပြီဟုငါဆို၏။- တဖန်ငါဆို
သည်ကား၊ ဣသရေလလူတို့သည် ဤအမှုကိုမ
သိကြသလော။ မောရှေက၊ မရေရသော လူမျိုး
အားဖြင့်သင်တို့သည် ငြူစူသောစိတ်ရှိစေခြင်းငှါ
၎င်း၊ ပညာမရှိသော လူမျိုးအားဖြင့် စိတ်ဆိုး စေ
၂၀ ခြင်းငှါ၎င်းငါပြုမည်ဟုရှေ့ဦးစွာဆို၏။-ဟေရှာ
ယသည် သာ၍ ရဲရင့်စွာ ဆိုသည်ကား၊ ငါကိုမ
ရှာသော သူတို့သည် ငါကိုတွေ့ရကြ၏။ ငါ၏အ
ကြောင်းကို မမေးမြန်းသောသူတို့၌ ငါထင်ရှား
၂၁ သည်ဟုဆို၏။- ဣသရေလလူတို့ကိုရည်မှတ်၍
တဖန်မိန့်တော်မူသည်ကား၊ နားမထောင်၊ ငြင်း
ဆန်တတ်သောလူမျိုးသို့တနေ့လုံးငါသည်လက်
တို့ကိုဖြန့်ရပြီဟုဆိုသတည်း။

၁၁

၁ သို့ဖြစ်လျှင်၊ ဘုရားသခင်သည် မိမိလူမျိုးကို
ပယ်တော်မူပြီလောဟုမေးသော်၊ ပယ်တော်မမူ
ဟု ဆိုရ၏။ ငါပင်ဣသရေလလူဖြစ်၏။ အာဗြဟံ
၂ အမျိုး၊ ဗင်္ယာမိန်အနွယ်ဖြစ်၏။- ဘုရားသခင်
သည် အထက်က သိမှတ်တော်မူသော မိမိလူတို့
ကိုပယ်တော်မမူ။ ပရောဖက်ဧလိယက၊ အိုထာ
၃ ဝရဘုရား၊-သူတို့သည်ကိုယ်တော်၏ပရောဖက်
များကိုသတ်ကြပါပြီ။ ကိုယ်တော်၏ယဇ်ပလ္လင်
များကို ဖြိုဖျက် ကြပါပြီ။ အကျွန်ုပ် တယောက်
တည်းကျန်ရစ်၍၊ အကျွန်ုပ်အသက်ကိုပင်ရှာကြ
ပါ၏ဟု၊ ဘုရားသခင်ရှေ့မှာဣသရေလအမျိုးတ
ဖက်၌လျှောက်ထားသည်ဟု၊ ကျမ်းစာ၌ပါသော
အကြောင်းကို သင်တို့သည်မသိ ကြသလော။-
၄ ထိုသို့လျှောက်သောအခါ၊ အဘယ်သို့ဗျာဒိတ်
ထား တော်မူသနည်းဟူမူကား၊ ဗာလရှေ့၌ ဒူး
မထောက်သော လူ ခုနစ်ထောင် တို့ကို ငါအဖို့ငါ
၅ ကျန်ကြွင်းစေပြီဟု မိန့် တော်မူ၏။- ထိုနည်းတူ၊
ယခုကာလတွင်ပင် ကျေးဇူးတော်အတိုင်း ရွေး
ကောက် တော် မူသော အကြွင်း အကျန် ရှိသေး
၆ ၏။- ကျေးဇူးတော်အားဖြင့်ရှိလျှင်၊ ကိုယ်ကျင့်

သောအကျင့်အားဖြင့်မရှိ၊ ရှိလျှင် ကျေးဇူးသည်
ကျေးဇူးမဟုတ်၊ ကိုယ်ကျင့်သော အကျင့်အား
ဖြင့်ရှိလျှင်၊ ကျေးဇူးအားဖြင့်မရှိ၊ ရှိလျှင်ကိုယ်
၇ ကျင့်သောအကျင့်သည်အကျင့်မဟုတ်၊- သို့ဖြစ်
လျှင်အဘယ်သို့နည်း၊ ဣသရေလလူတို့သည်ရှာ
သောအရာကို မတွေ့မရကြ၊ ရွေးကောက်တော်
မူသောသူတို့သာ တွေ့ရကြ၏၊ ကြွင်းသောသူတို့
၈ ကိုမျောင်မိုက်ဖုံးလွှမ်း၏၊- ထိုသို့နှင့်အညီကျမ်း
စာလာသည်ကား၊ ဘုရားသခင်သည် အိပ်ချင်
သောသဘောကိုငှင်၊ မမြင်နိုင်သော မျက်စိကို
၎င်း၊ မကြားနိုင်သော နားကို၎င်း၊ ထိုသူတို့အား
ပေးတော်မူပြီဟု လာ၏၊ ထိုကျမ်းစာချက်သည်
၉ ယနေ့တိုင်အောင် ပြည့်စုံသတည်း၊- ဒါဝိဒ်၏
စကားဟူမူကား၊ သူတို့စားပွဲသည်သူတို့၌ကျော့
ကွင်းသော်၎င်း၊ ကျော့သော်၎င်း၊ ထောင်ချောက်
သော်၎င်း၊ ခံထိုက်သော အပြစ်သော်၎င်း ဖြစ်ပါ
၁၀ စေ၊- သူတို့သည်မမြင်နိုင်စေခြင်းငှါ မျက်စိကွယ်ပါ
စေ၊ သူတို့ကျောသည်ထည်းအစဉ်ကုန်းပါစေ
ဟုလာသတည်း။
၁၁ ထို့ဖြစ်လျှင်၊ ဣသရေလလူတို့သည်လဲ၍နေရ
သည်တိုင်အောင်ထိမိကြပြီလောဟု မေးသော်၊
လဲ၍မနေရကြ၊ သူတို့၏စိတ်ကို နှိုးဆော်စရာအ
ကြောင်းရှိစေခြင်းငှါ၊ သူတို့၏ လဲခြင်းအားဖြင့်
ကယ်တင်တော်မူခြင်းကျေးဇူးသည် တပါးအ
၁၂ မျိုးသားတို့၌ ထတ်ရောက်လေ၏၊- သူတို့၏ လဲ
ခြင်းအရာသည်လောကီသားတို့၏စီးပွားကို၎င်း၊
သူတို့၏ရှုံးခြင်းအရာသည် တပါးအမျိုးသားတို့
၏စီးပွားကို၎င်း ပြုစုလျှင်၊ သူတို့၏ပြည့်စုံခြင်းအ
၁၃ ရာသည်သာ၍ ပြုစုမည် မဟုတ်လော၊- ထိုသို့
၁၄ ဆိုသော်၊ ငါသည် တပါးအမျိုးသားတို့နှင့်
ဆိုင်သောတမန်တော်ဖြစ်သည်နှင့်အညီ၊ ထိုတ
မန်တော်၏အရာကိုချီးမွမ်းလျက်၊ ငါ့အမျိုးသား
ချင်းတို့၏စိတ်ကို တစုံတခုအားဖြင့် နှိုးဆော်၍၊ အ
ချို့တို့ကို ကယ်တင်ခြင်းငှါ၊ တပါးအမျိုးသား
၁၅ ဖြစ်သောသင်တို့အား ဆိုရသတည်း၊- ထိုသူတို့
ကိုပယ်တော်မူခြင်းအရာသည် လောကီသားတို့
၏မိဿဟာယဖွဲ့ခြင်းအကြောင်းဖြစ်လျှင်၊ သူ
တို့ကို သိမ်းဆည်းတော်မူခြင်းအရာသည် သေ
ခြင်းမှထမြောက်ရှင်ပြန်ခြင်းကဲ့သို့ဖြစ်လိမ့်မည်
၁၆ မဟုတ်လော၊- အဦးနယ်သော မုန့်စိမ်းသည်
သန့်ရှင်းလျှင်၊ တပုံလုံးသန့်ရှင်းလိမ့်မည်၊ အ
မြစ်သန့်ရှင်းလျှင်၊ အခက် အလက် များသည်း
၁၇ သန့်ရှင်းကြလိမ့်မည်၊- အချို့သောအခက်တို့ကို
ချိုးဖဲ့ပြီးမှ၊ ရိုင်းသောသံလွင်ပင်ဖြစ်သောသင်
သည် ထိုအခက်တို့၌ ဆက်၍ မိုက်ထဖြင့်၊ အ
ခက်များနှင့်အတူ သံလွင်ပင်အမြစ်ကို၎င်း၊ အ
ဆီကြွယ်ဝ ကို၎င်း ဆက်ဆံလျှင်၊ ချိုးဖဲ့သော အ
၁၈ ခက်တို့ကိုကဲ့ရဲ့ဝါကြွားခြင်းမရှိနှင့်၊- ဝါကြွား
လျှင်မူကား၊ သင်သည် အမြစ်ကို မဆောင်၊ အ
၁၉ မြစ်သည်သင့်ကို ဆောင်၏၊- ငါ့ကိုဆက်၍ မိုက်
ခြင်းငှါ ထိုအခက်တို့ကို ချိုးဖဲ့ပြီဟု သင်ဆိုပြန်
၂၀ လျှင်၊ မှန်စေတော့၊-မယုံကြည်သောစိတ်ရှိသော
ကြောင့်သူတို့ကိုချိုးဖဲ့သည်ဖြစ်၍၊ သင်သည်ယုံ
ကြည်ခြင်းအားဖြင့်သာတည်၏၊ မာနစိတ်မရှိစေ
၂၁ နှင့်၊ ကြောက်ခြင်းစိတ်ရှိစေတော့၊- အကြောင်း
မူကား၊ ဘုရားသခင်သည် ပကတိ အခက်များ
ကို နှမြောတော် မမူလျှင်၊ သင့်ကို နှမြော
၂၂ တော်မူမည်လော၊- သို့ဖြစ်၍၊ လဲသောသူတို့၌
ပြင်းစွာ စီရင်တော်မူခြင်းကို၎င်း၊ ကျေးဇူးတော်
၌သင်သည်တည်နေလျှင်၊သင်၌ပြုတော်မူသော
ကျေးဇူးတော်ကို၎င်း၊ ဤ နှစ်ပါးကို ထောက်လေ
တော့၊ ကျေးဇူးတော်၌ မတည်မနေလျှင်၊ သင်
၂၃ သည်လည်း၊ နုတ်ပြစ်ခြင်းကို ခံရမည်၊- ထိုသူ
သည် မယုံကြည်သောစိတ်ပျောက်လျှင်၊ အပင်
၌ တဖန်ဆက်၍ မိုက်သော အခွင့်ကို ရကြလိမ့်
မည်၊ သူတို့ကိုတဖန်ဆက်၍ မိုက်ခြင်းငှါဘုရား
၂၄ သခင်တတ်နိုင်တော်မူ၏၊- အဘယ်သို့နည်းဟူ
မူကား၊ ပကတိ ရိုင်းသော သံလွင်ပင်မှ သင့်ကို
နုတ်ယူ၍၊ ကောင်းသောသံလွင်ပင်၌ပကတိကို
မလိုက်ဘဲဆက်၍မိုက်သည်မှန်လျှင်၊ ပကတိအ
ခက်ဖြစ်သော ထိုသူတို့သည် မိမိတို့သံလွင်ပင်၌
ဆက်၍ မိုက်သော အခွင့်ကို သာ၍ ရကြမည်မ
ဟုတ်လော။
၂၅ ညီအစ်ကိုတို့၊ သင်တို့သည်ဝါကြွားသောစိတ်
မရှိစေခြင်း အကြောင်း၊ တပါးအမျိုးသား အ
ပေါင်းတို့သည်မဝင်မှီတိုင်အောင်၊ ဣသရေလလူ
အချို့တို့ကို မျောင်မိုက်ဖုံးလွှမ်းခြင်းအကြောင်း
တည်းဟူသော၊ နက်နဲသောအရာကို မသိဘဲနေ
၂၆ စေခြင်းငှါ ငါအလိုမရှိ၊- ထိုသို့ကျမ်းစာနှင့်အညီ၊
ဣသရေလ လူအပေါင်းတို့သည် ကယ်တင်ခြင်း
သို့ရောက်ကြလိမ့်မည်၊ ကျမ်းစာချက်ဟူမူကား၊
ကယ်လွှတ်သော သခင်သည် ဇိအုန်တောင်၌
ပေါ်ထွန်း၍၊ မတရားသောအမှုကို ယာကုပ် အ
၂၇ မျိုးသား၊ ... ဖယ်ရှားတော်မူလတ္တံ၊- သူတို့အပြစ်များ

ကို ငါပယ်ရှင်းသောအခါ၊ သူတို့၌ ငါပေးသော
ပဋိညာဉ်တရားသည် ထိုသို့သောတရားဖြစ်၏ဟု
၂၈ ထာသဘည်း။-သူတို့သည်ဧဝံဂေလိတရားအား
ဖြင့်မူကား၊ သင်တို့ အကြောင်းကြောင့် ရန်သူ
ဖြစ်ကြ၏၊ ရွေးကောက်တော်မူခြင်းအားဖြင့်မူ
ကား၊ ဘိုးဘေးများ အကြောင်းကြောင့် ချစ်သူ
၂၉ ဖြစ်ကြ၏။- အဘယ်သို့နည်းဟူမူကား၊ ဘုရား
သခင် ပေးသနားတော်မူခြင်း၊ ခေါ်တော်မူ
ခြင်း ကျေးဇူးသည် လောက်ပြန်ခြင်း သဘောမ
၃၀ ရှိ။- သင်တို့သည် အထက်က၊ ဘုရား သခင်၏
စကားတော်ကို နားမထောင်ဘဲနေသော်လည်း၊
ယခုတွင် သူတို့ နားမထောင်ခြင်းအမှု အားဖြင့်
၃၁ သနားတော်မူခြင်းကိုခံရသကဲ့သို့၊-ထိုနည်းတူ၊
သင်တို့ခံရသော သနားတော် မူခြင်း အားဖြင့် သူ
တို့ လည်း သနားတော် မူခြင်း ကို ခံရ မည် အ
ကြောင်း၊ ယခုတွင်သူတို့သည်နားမထောင်ဘဲနေ
၃၂ ရကြ၏။-ဘုရားသခင်သည်လူအပေါင်းတို့ကိုသ
နားတော် မူခြင်း အခွင့် ရှိစေခြင်းငှါ လူအပေါင်း
တို့ကို နားမထောင်ခြင်းအဖြစ်၌ချုပ်ထားတော်
၃၃ မူ၏။-ဘုရားသခင်၏ပညာနှင့်ဉာဏ်တော်သဉ္
အတွန် ကျယ်ဝန်း နက်နဲ လှ တကား။ စီရင်တော်
မူချက်တို့ကို အဘယ်သူမျှ စစ်၍ မကုန်နိုင်၊ ကြွ
တော်မူရာလမ်းတို့ကိုလိုက်၍ရှာသော်လည်းမ
၃၄ တွေ့မရှိနိုင်။- ထာဝရဘုရား၏ စိတ်တော်ကို အ
ဘယ်သူသိသနည်း။ ထာဝရဘုရားနှင့်အဘယ်
၃၅ သူသည်တိုင်ပင်ဖက်ပြုသနည်း။- ကျေးဇူးဆပ်
တော်မူရမည်အကြောင်း၊ ထာဝရဘုရား၌ အ
၃၆ ဘယ် သူ သည် ကျေးဇူး ပြု ဘူး သနည်း။- ခပ်
သိမ်းသော အရာတို့သည် ကိုယ်တော် အထဲ က
ဍင်း၊ ကိုယ်တော်အားဖြင့်ဍင်း၊ ကိုယ်တော်အမှို့အ
လိုငှါလည်း ဖြစ်ကြ၏၊ ကမ္ဘာ အဆက် ဆက် ဘုန်း
ကြီးတော်မူစေသတည်း။ အာမင်။

၁၂

၁ ညီအစ်ကို တို့၊ အ သက် ရှင်ခြင်း လက္ခဏာ၊
သန့်ရှင်းခြင်းလက္ခဏာ၊ ဘုရားသခင် နှစ်သက်
တော် မူဖွယ် သော လက္ခဏာ နှင့် ပြည့် စုံသော
ယဇ်ကိုသင်တို့သည်ပူဇော်၍၊ မိမိကိုယ်ခန္ဓာကို
ဘုရားသခင်အား ဆက်ကပ်ခြင်းတဦးဟူသော
သင်တို့ပြုအပ်သောဝတ်ကို ပြုမည်အကြောင်း၊
ဘုရားသခင်၏ ကရုဏာတော်ကို ထောက်ထား
၍၊ သင်တို့ကိုငါတိုက်တွန်းနှိုးဆော်ပေ၏။-သင်
တို့သည်လောကီပုံသဏ္ဌာန်ကိုမဆောင်ဘဲ၊ ကြွန်း
ကောင်းမြတ်သောအရာ၊ နှစ်သက်ဖွယ်သောအ
ရာ၊ စုံလင်သော အရာ တည်း ဟူသော၊ ဘုရား
သခင်အလိုတော်ရှိသောအရာသည်အဘယ်အ
ရာဖြစ်သည်ကိုသင်နိုင်မည်အကြောင်း၊ စိတ်နှလုံး
ထုံးကို အသစ်ပြုင်ဆင်၍ ပုံသဏ္ဌာန် ပြောင်းလဲ
၃ ခြင်းသို့ရောက်ကြလော့။- သင်တို့သည်ကိုယ်ကို
ထင်သင့်သည် အတိုင်း ထက် လွန်၍ မထင်ဘဲ၊
ဘုရား သခင်သည် လူအသီး အသီးတို့အား ယုံ
ကြည် ခြင်းကို ဝေပေး တော်မူသည် နှင့် အညီ၊
ကိုယ်ကိုလျှောက်ပတ်စွာထင်ရမည်အကြောင်း၊
ငါသည်ကိုယ်ခံရသောကျေးဇူးတော်ကိုအမှီပြု
လျှက်၊ သင်တို့တွင်ရှိသမျှသောသူတို့ကိုမှာထား
၄ ၏။- ဥပမာကား၊ ကိုယ်တခု၌ အင်္ဂါ အများရှိ
သည်ဖြစ်၍၊ ထိုအင်္ဂါအများသည် ဆောင်ရွက်
၅ ရာအမှုတခုတည်းမရှိသကဲ့သို့၊- ထိုအတူ၊ အ
များဖြစ်သောငါတို့သည် ခရစ်တော်၌ တကိုယ်
တည်းဖြစ်၍၊ အသီးအသီးအင်္ဂါချင်းဖြစ်ကြ၏။-
၆ ထိုသို့ပေးတော်မူသောကျေးဇူးတော်အတိုင်း ငါ
တို့သည် အသီးသီး အပြားပြားသော ဆုများကို
ခံရသည်ဖြစ်၍၊ ပရောဖက်အရာရှိလျှင်၊ ယုံကြည်
ခြင်း၏ ပမာဏကို ရသည်အတိုင်း ပရောဖက်ပြု
၇ ကြကုန်အံ့။- ဓမ္မဆရာ အရာ ရှိလျှင်၊ ဓမ္မဆရာ၏
အမှုကို ဆောင် ရွက် ကြ ကုန် အံ့၊ ဆုံးမ ဩဝါဒ
ပေးသောသူသည် ထို အမှုကိုဆောင်ရွက်စေ-
၈ နှိုးဆော် သွေး ဆောင် သော သူသည် ထိုအမှုကို
ဆောင်ရွက်စေ၊ အလှူ့အကြွေဝေ ငှ သောသူသည်
လျစ်လျူ သောစိတ်နှင့်ဝေငှစေ၊ အုပ်ချုပ်သော
သူသည်လုံ့လဝီရိယနှင့်အုပ်ချုပ်စေ၊ မစသနား
ခြင်း အမှုကို ပြုသော သူသည် စေတနာ စိတ်နှင့်
ပြုစေ။
၉ မေတ္တာ စိတ်သည် လျှို့ဝှက် ခြင်းနှင့် ကင်းစေ
လော့၊ ဆိုးညစ်သောအမှုကို စက်ဆုပ်ရွံရှာကြ
လော့၊ ကောင်းမွန်သော အမှု၌ မှီဝဲ ဆည်းကပ်
၁၀ ကြလော့။- ညီအစ်ကိုချစ်ခြင်းအရာမှာ၊ ပကတိ
ပေါက်ဖော် ကဲ့ သို့ တယောက် ကို တယောက် စုံ
မက်ကြလော့၊ ရိုးသေခြင်း အရာမှာ၊ သူတပါး
၁၁ ကိုကိုယ်ထက်ရှိုးမြှောက်ကြလော့။- အားထုတ်
ခြင်းအရာမှာပျင်းရိခြင်းမရှိဘဲလျှက်၊ စိတ်တန်း
အမြင့်၊ သခင်ဘုရား၏ အလိုတော်သို့ လိုက်၍
၁၂ အား ထုတ် ကြ လော့၊- မျှော် လင့် လျှက် ဝမ်း
မြောက်ကြလော့၊ ဆင်းရဲ ဒုက္ခ ရောက်သော အ
ခါ သည်းခံကြလော့၊ ဆုတောင်းပဌနာ ပြုခြင်း

၁၃ အမှုကို အမြဲပြုကြလော့။- သန့်ရှင်းသူတို့သည်
ဆင်းရဲသောအခါဝေငှပေးကမ်းကြလော့။ အာ
ဂန္တုဝိုအား ဧည့်သည်ဝတ်ကိုပြုစုအား၌ပြုကြ
၁၄ လော့။- သင်တို့ကို ညှဉ်းဆဲသောသူ တို့အား
မင်္ဂလာရှိကြလော့။ ကျိန်ဆဲခြင်းကိုမပြု၊ မင်္ဂလာ
၁၅ ရှိခြင်းကို ဆုပြုကြလော့။- ဝမ်းမြောက် သော
သူတို့နှင့်အတူ ဝမ်းမြောက်ခြင်းကိုငှင်၊ ငိုကြွေး
သော သူတို့ နှင့် အတူ ငိုကြွေး ခြင်း ကိုငှင် ပြုကြ
၁၆ လော့။- အချင်းချင်းစိတ်သဘော တညီတညွတ်
တည်းရှိကြလော့။ ဂုဏ်စည်းစိမ် ကိုငဲ့ကွက်ခြင်း
မရှိကြနှင့်၊ နှိမ့်ချသောသူတို့ကိုအပေါင်းအဖော်
လုပ်ကြလော့။ ငါသည်ပညာရှိ၏ဟု ကိုယ်ကိုယ်ကိုမ
၁၇ ထင်ကြနှင့်။- အဘယ်သူကိုမျှ ရန်တုံ့မပြုကြနှင့်။
လူအပေါင်းတို့ရှေ့မှာ တင့်တယ် လျောက် ပတ်
၁၈ သောအကျင့်ကိုကြံစည်ကြလော့။- သင်တို့သည်
တတ်နိုင်သမျှအတိုင်းလူအပေါင်းတို့နှင့်အသင့်
၁၉ အသင့်နေကြလော့။- ချစ်သူတို့၊ သူတပါးသည်
သင်တို့ကိုပြစ်မှားလျှင်၊ ကိုယ်တိုင်အပြစ်ဖြေ၍မ
ဆုံးကြနှင့်၊ အမျက်တော်ကိုအခွင့်ပေးကြလော့။
ကျမ်းစာ လာသည်ကား၊ ငါသည်အပြစ်တရား
ကိုစီရင်ပိုင်၏၊ အပြစ်နှင့်အလျောက်ငါဆပ်ပေး
၂၀ မည်ဟု၊ ထာဝရဘုရားမိန့်တော်မူ၏။-ထိုကြောင့်၊
သင် ၏ ရန် သူ သည် မွတ် သိပ် လျှင် ထုပ် ကျွေး
လော့။ ရေငတ်လျှင် သောက်စရာကို ပေးလော့။
ထိုသို့ပြုလျှင်၊ သူ၏ခေါင်းပေါ်၌ မီးခဲကို ပုံထား
၂၁ လိမ့်မည်။- အဆိုးအားဖြင့် အရှုံး မခံနှင့်။ အ
ကောင်းအားဖြင့်အဆိုးကိုနိုင်လော့။

၁၃

၁ အမိုးရသောမင်းအာဏာစက်၏အုပ်စိုးခြင်း
ကိုလူတိုင်းဝန်ခံစေ။ အကြောင်းမူကား၊ ဘုရား
သခင်၏ အခွင့်မရှိလျှင်၊ မင်းအာဏာ စက်မရှိ။
အာဏာစက်ရှိသမျှသည် ဘုရားသခင် ခန့်ထား
၂ တော်မူရာ ဖြစ်သတည်း။- ထိုကြောင့်၊ မင်းအာ
ဏာကို ဆန့် သော သူ သည် ဘုရား သခင် စီရင်
တော် မူရာကို ဆန့် သော သူ ဖြစ် ၏၊ ထိုသို့ဆန့်
၃ သောသူသည်ရာဇဝတ်ကိုခံရမည်။-မင်းမူကား
ကောင်းသောအကျင့်ကို ကျင့်သောသူ ကြောက်
ရွံ့ဖြစ်သည် မဟုတ်၊ မကောင်းသော အကျင့်ကို
ကျင့်သောသူကြောက်ရွံ့ဖြစ်၏။ မင်းအာဏာကို
မကြောက်ဘဲ နေချင်သလော။ ကောင်းသော အ
ကျင့် ကို ကျင့် လော့။ ကျင့် လျှင် မင်း အာ ဏာ
၄ ကြောင့်ချီးမွမ်းခြင်းကိုခံရလိမ့်မည်။-မင်းသည်
ကား၊ သင်၏အကျိုး၊ အလို့ငှါဘုရားသခင်၏ အ
စေခံဖြစ်၏၊ မကောင်းသောအကျင့်ကိုကျင့်လျှင်၊
ကြောက် ခြင်း ရှိစေ လော့။ အကြောင်းမူကား၊
မင်းသည် အ ချည်း နှီး ထား ကို ဆောင် သည် မ
ဟုတ်။ မကောင်းသောအကျင့်ကိုကျင့်သောသူတို့
ကို အပြစ်တရားစီရင်၍ ရာဇဝတ် ပေးပိုင်သော
သူတည်းဟူသော ဘုရားသခင်၏ အစေခံဖြစ်သ
၅ တည်း။-ထိုကြောင့်၊ ရာဇဝတ်ကိုကြောက်သော
ကြောင့်သာ မင်းအာဏာစက်၏အုပ်စိုးခြင်းကို
ဝန်ခံရမည်မဟုတ်၊ ကိုယ်ကိုကိုယ်သိသောစိတ်
၆ ကို ထောက် ၍ ဝန် ခံ ရ မည်။- ထို အ ကြောင်း
ကြောင့် အခွန်အတုတ်ကို ပေးကြလော့။ မင်းတို့
သည် ဘုရားသခင်၏အမှုတော်ဆောင်ဖြစ်၍၊ အမှုတော်
၇ ကိုအမြဲထမ်းကြ၏။-ထိုကြောင့်၊ လူအသီးအသီး
ခံထိုက်သည့်အတိုင်း ပေးကြလော့။ အခွန်ကိုခံ
ထိုက်သောသူအား အခွန်ကိုငှင်၊ အကောက်ကို
ခံထိုက်သော သူအား အကောက်ကိုငှင် ပေးကြ
လော့။ ကြောက်ထိုက်သော သူကို ကြောက်ကြ
လော့။ ရိုသေထိုက်သောသူကိုရိုသေကြလော့။
၈ အချင်းချင်း ချစ်ခြင်းမေတ္တာ မှတပါး၊ အဘယ်
ကြွေးမျှ မတင်စေနှင့်။ သူတပါးကို ချစ်သော သူ
၉ သည်အကျင့်တရားနှင့်ပြည့်စုံပြီ။-အကြောင်းမူ
ကား၊ သူ့မယားကိုမပြစ်မှားနှင့်၊ လူအသက်ကို
မသတ်နှင့်၊ သူ့ဥစ္စာကိုမခိုးနှင့်၊ မမှန်သောသက်
သေကိုမခံနှင့်၊ သူ့ဥစ္စာကို တပ်မက်လိုချင်သော
စိတ် မရှိ စေ နှင့် ဟူ သော ပညတ် မှစ၍ ထွေ ပြား
သော ပညတ်ရှိသမျှတို့သည်၊ ကိုယ်နှင့်စပ်ဆိုင်
သော လူကို ကိုယ် နှင့် အမျှ ချစ် လော့ ဟူ သော
၁၀ ပညတ်တချက်၌ အပါအဝင် ဖြစ်ကြ၏။- ချစ်ခြင်း
မေတ္တာရှိသော သူသည် ကိုယ်နှင့် စပ်ဆိုင်သော
သူ၏အကျိုးကိုမဖျက်ဆီးတတ်။ ထိုကြောင့်၊ ချစ်
ခြင်း မေတ္တာသည် အကျင့်တရား ပြည့်စုံရာ ဖြစ်
သတည်း။
၁၁ ထိုမှတပါး၊ ငါတို့ကိုကယ်တင်သောကျေးဇူး
တော်သည်ငါတို့ ယုံကြည်သောနေ့ရက်၌ရှိသည်
၁၂ ထက်သာ၍ နီးသောကြောင့်၎င်း၊- ညဥ့်အ
ချိန်ကုန်လု၍ နေ့အချိန် ရောက်လုသောကြောင့်
၎င်း၊ ယခုအခါ အိပ်ပျော် ရာမှ နိုးရသော အချိန်
ရောက်ပြီဟု၊ ငါတို့သည်သိ၍ကာလအချိန်ကို
ထောက်လျှက်မှောင်မိုက်၏ အကျင့်ကိုပယ်ရှား
၍၊ အလင်း၏ လက် နက် စုံကို ဝတ်ဆင် ဆောင်
၁၃ ရွတ်ကြကုန်အံ့။- ပွဲလုပ်ခြင်း၊ ထမ်းမိုးသောင်

ကျူးခြင်း၊ စော်ကားသောမေထုန်၌ မှီဝဲခြင်း၊ ထိ
ထောသောညစ်ညူးခြင်း၊ ရန်တွေ့ခြင်း၊ ငြူစူခြင်း၊ ဝုဏ်ပြိုင်
ခြင်း၊ အမှုတို့ကိုကြည်ရှောင်၍၊ နေ့အချိန်၌ကဲ့သို့
တင့်တယ်လျောက်ပတ်စွာ ကျင့်ဆောင်ပြုမူကြ
၁၄ ထုန်ထုံး။-သခင်ယေရှုခရစ်ကိုယူ၍တင်ဝတ်ဆောင်
ကြလော့၊ ကိုယ်ကာယ၏ တပ်မက်ခြင်းအလိုငှါ
မကြံစည်ကြနှင့်။

၁၄

၁ ထိုကြည်ညိုအားနည်းသောသူတို့ကို ထက်ခံကြ
လော့၊ ထိုသို့ရာတွင်၊ ထိုမှားယွင်းသောပြဿနာတို့
ကိုထိုသူနှင့် မဆွေးနွေးကြနှင့်။ အစာအမျိုးမျိုး
၂ ကိုစားအပ်သည်ဟု လူအချို့ယုံ၏။- အားနည်း
သောသူမူကား၊ ဟင်းသီးဟင်းရွက်ကိုသာ စား
၃ ၏။- အမျိုးမျိုးကိုစားသောသူသည် မစားသော
သူကိုမထီမဲ့မြင်မပြုစေနှင့်၊ မစားသောသူသည်
လည်း၊ စားသောသူကိုမစစ်ကြောမစီရင်စေနှင့်၊
အကြောင်းမူကား၊ ဘုရားသခင်သည် သူကို
၄ ထက်ခံတော်မူပြီ။- သူတပါးပိုင်သောသူကို စစ်
ကြောစီရင်သောသင်သည်အဘယ်သူနည်း၊ သူ
သည် မိမိသခင်စီရင်သောအားဖြင့်သာ အပြစ်
လွတ်ခြင်း၊ အပြစ်ခံခြင်းသို့ရောက်ရ၏၊ သူသည်
အပြစ်လွတ်ခြင်းသို့ရောက်လိမ့်မည်၊ အကြောင်း
မူကား၊ ဘုရားသခင်သည် သူ၏အပြစ်ကိုလွှတ်
၅ ခြင်းငှါ တတ်နိုင်တော်မူ၏။- နေ့ရက်တရက်
ထက်တရက်သာ၍ မြတ်သည်ဟု လူအချို့ထင်
ထင်၏၊ လူအချို့ မထင်၊ လူတိုင်း မိမိမိတ်သ
၆ ဘောကျပါစေ။- နေ့ရက်ကိုစောင့်သောသူသည်
သခင်ဘုရားကို ထောက်၍စောင့်၏၊ နေ့ရက်ကို
မစောင့်သောသူသည်လည်း၊ သခင်ဘုရားကို
ထောက်၍မစောင့်ဘဲနေ၏၊ စားသောသူသည်
သခင်ဘုရားကို ထောက်သောစိတ်နှင့်စား၍
ကျေးဇူးတော်ရှိသည်ဟုဝန်ခံ၏၊ မစားသောသူ
သည်လည်း၊ သခင်ဘုရားကိုထောက်သောစိတ်
နှင့်မစားဘဲနေ၍၊ ကျေးဇူးတော်ရှိသည်ဟုဝန်ခံ
၇ ၏။- ငါတို့တွင်အဘယ်သူမျှ ကိုယ်အမှီအလိုငှါ
အသက်မရှင်၊ အဘယ်သူမျှကိုယ်အမှီအလိုငှါ
၈ မသေ။- အသက်ရှင်လျှင်၊ သခင်ဘုရားအမှီအ
လိုငှါရှင်၏၊ သေလျှင်လည်း၊ သခင်ဘုရားအမှီအ
လိုငှါသေ၏၊ ထိုကြောင့်၊ အသက်ရှင်သည် ဖြစ်
စေ၊ သေသည်ဖြစ်စေ၊ သခင်ဘုရား ဆိုင်တော်မူ
၉ ၏။- အကြောင်းမူကား၊ ခရစ်တော်သည် သေ
သောသူတို့ကိုငှင်း၊ ရှင်သောသူတို့ကိုငှင်း၊ အစိုးရ
ရသော အရှင်ဖြစ်လိုသောငှါ၊ အသေခံ၍၊ ခံပြီးမှ
အသက်ရှင်ပြန်တော်မူ၏။
၁၀ သင်သည် ညီအစ်ကိုချင်းကို အဘယ်ကြောင့်
စစ်ကြောစီရင်သနည်း၊ ညီအစ်ကိုချင်းကို အ
ဘယ်ကြောင့်မထီမဲ့မြင်ပြုသနည်း၊ ငါတို့ရှိသမျှ
သည် ခရစ်တော်၏တရားပလ္လင်တော်ရှေ့သို့
၁၁ ရောက်ရကြမည်။- ထာဝရသောသည်ကား၊ ငါ
အသက်ရှင်တော်မူသည်ဖြစ်၍၊ ရှေ့၌ လူတိုင်း
ဒူးထောက်ရမည်၊ ဘုရားသခင် အား လူတိုင်း
မိမိနှုတ်နှင့်သစ္စာခံရမည်ဟု၊ ထာဝရဘုရားမိန့်
၁၂ တော်မူ၏။- သို့ဖြစ်၍၊ ငါတို့ရှိသမျှသည် ဘုရား
သခင်စစ်ကြောတော်မူခြင်းကိုခံရကြမည်။
၁၃ ထိုကြောင့်၊ ငါတို့သည်တယောက်နှင့်တယောက်
မစစ်ကြော မစီရင်ဘဲ နေကြကုန်အံ့၊ ညီအစ်ကို
ချင်းထိမိ၍ လဲစရာအရွင့်၊ မှားယွင်းစရာအခွင့်မ
၁၄ ရှိစေမည်အကြောင်းသာ၍စီရင်ကြကုန်အံ့။-အ
ဘယ်အစာမျှပကတိအတိုင်းမညစ်ညူးကြောင်း
ကို၊ ငါသည်သခင်ယေရှုကိုအမှီပြုလျက်သဘော
ကျ၍အမှန်သိ၏၊ သို့သော်လည်း၊ ညစ်ညူးသည်
ဟု အကြံရှိသူသည်ထင်၏၊ ထိုသူ၌ညစ်ညူး၏။-
၁၅ သင်၏ ညီအစ်ကိုသည် သင်စားသော အစာ
ကြောင့်စိတ်နာရလျှင်၊ သင်သည် မေတ္တာတရား
ကိုမကျင့်၊ ခရစ်တော်သည် အသေခံတော်မူ
သောကျေးဇူးတော်ကိုခံသောသူကိုသင်၏အစာ
၁၆ အားဖြင့်အကျိုးမနည်းစေနှင့်။-သင်တို့သည်အ
ခွင့်ရသည် အမှုမှာ ကဲ့ရဲ့စရာအကြောင်းမရှိစေ
၁၇ နှင့်။- ဘုရားသခင်၏နိုင်ငံတော်သည် အစာအ
သောက်၌မတည်၊ ဖြောင့်မတ်ခြင်း၊ ငြိမ်သက်
ခြင်း၊ သန့်ရှင်းသောဝိညာဉ်တော်အားဖြင့် ခံရ
၁၈ သောဝမ်းမြောက်ခြင်း၌တည်၏။- ထိုသို့ကျင့်၍
ခရစ်တော်၏အမှုကို ဆောင်ရွက်သော သူသည်
ဘုရားသခင် ရှေ့၌ နှစ်သက်ဖွယ်၊ လူတို့တွင်မျက်
၁၉ မှောက်ဖွယ် ဖြစ်၏။- ထိုကြောင့်၊ ငြိမ်သက်ခြင်းနှင့်
၎င်း၊ အချင်းချင်းတည်ဆောက်ခြင်းနှင့်၎င်း စပ်ဆိုင်
သော အရာတို့ကို မှီဝဲ၍ လိုက်ကြ ကုန်အံ့။-
၂၀ ဘုရားသခင်၏အမှုတော်ကိုသင်၏အစာအလိုငှါ
မဖျက်ဆီးနှင့်၊ အစာအမျိုးမျိုးတို့သည် စင်ကြယ်
၏၊ သို့သော်လည်း၊ သူတပါးထိမိ၍ လဲစရာအ
၂၁ ကြောင်းနှင့်စားသောသူသည်အပြစ်ရှိ၏။-အမဲ
သားကိုစားခြင်း၊ စပျစ်ရည်ကိုသောက်ခြင်းအစရှိ
မှစ၍၊ ညီအစ်ကိုထိမိ၍လဲစရာအကြောင်း၊ မှား
ယွင်းစရာအကြောင်း၊ အားနည်းစရာအကြောင်း၊

၂၂ ရှား၏ကိုရှောင်အပ်၏။- ထင်သည်ယုံခြင်း၊ရှိလျှင်
ကိုယ်အလိုအလျောက် ဘုရားသခင်ရှေ့၌ ရှိစေ
လော့၊ ကိုယ်ထောက်ခံသောအမှုမှာကိုယ်ကို မစစ်
၂၃ ကြောမစီရင်သောသူသည်မင်္ဂလာရှိ၏။- ယုံမှား
သောသူသည်စား၏လျှင်၊ ယုံသောစိတ်မရှိဘဲ စား
သောကြောင့်အပြစ်စီရင်ခြင်း၊ကိုခံရ၏၊ယုံသော
စိတ်မရှိဘဲ ကျင့်သမျှသော အကျင့်တို့သည် အ
ပြစ်ရှိကြ၏။

၁၅

၁ သို့ဖြစ်၍၊အားရှိသောငါတို့သည်ကိုယ်အလို
သို့မလိုက်၊ အားနည်းသော သူတို့၏ အားနည်း
၂ ခြင်း၊ကို ထည်းခံရကြမည်။- ထိုသို့ငါတို့ရှိသမျှ
သည် ကိုယ်နှင့်စပ်ဆိုင်သောသူ၏ အကျိုး၊ကို
ထောက်၍၊ သူကိုတည်ဆောက်စေခြင်းငှါ သူ၏
၃ အလိုသို့ လိုက်ကြကုန်အံ့။- အကြောင်း၊မူကား၊
ခရစ်တော်သည် ကိုယ်အလိုသို့ မလိုက်၊ ကျမ်း
စာထသည်အတိုင်း၊ ကဲ့ရဲ့ခြင်း၊ကို ခံတော်မူ၏။
ကိုယ်တော်ကို ကဲ့ရဲ့သော သူတို့၏ စကား၊သည်
အကျွန်ုပ်အပေါ်သို့ရောက်ပါ၏ ဟုကျမ်း၊စာထာ
၄ သတည်း။-ငါတို့သည်ကျမ်း၊စာ၌ပါသောသည်း
ခံခြင်း၊ သက်သာခြင်း၊ အကြောင်း၊များကို အမှီ
ပြု၍၊မျှော်လင့်ရသောအခွင့်ရှိစေခြင်းငှါ၊ကျမ်း
စာ၌ အထက်က ရေး၊ထား၊ သမျှ သည် ငါတို့ကို
၅ ဆုံးမဩဝါဒပေး၍ရေး၊ထား၊သတည်း။- သင်တို့
သည် ငါတို့ သခင် ယေရှု ခရစ်၏ ခမည်း၊တော်
တည်း၊ ဟူသော ဘုရား၊ သခင်ကို ညီညွတ်
၆ တည်း၊ နှုတ်မြွက်၍ ချီး၊မွမ်းစေခြင်းငှါ၊- ယေရှု
ခရစ်၏အလိုတော်အတိုင်း၊အချင်းချင်း၊စိတ်ညီ
ညွတ်တည်း၊ ရှိကြမည် အကြောင်း၊ သည်း၊ခံ
ခြင်း၊သက်သာခြင်း၏အရှင်၊ ဘုရား၊သခင်သည်
၇ ကယ်မ သနား၊တော်မူပါစေသော။- ခရစ်တော်
သည် ဘုရား၊သခင်၏ ဘုန်း၊တော်ကို ထင်ရှား၊စေ
လျက်၊ သင်တို့ကို လက်ခံတော်မူသည့်နည်းတူ၊
သင်တို့သည် တယောက်ကိုတယောက် လက်ခံ
ကြလော့။
၈ တဖန် ငါဆို သည် ကား၊ ယေရှု ခရစ် သည်
ဘုရား၊ သခင်၏ သစ္စာတော်ကို ဖော်၍၊ ဘိုး၊
ဘေး၊များ၊ခံရသော ဂတိတော်တို့ကိုတည်စေခြင်း
၉ ငှါ- အရေဖျား၊လှီး၊ခြင်း၊ကို ခံသောသူတို့၏ အမှု
ကိုဆောင်ရွက်တော်မူ၏။ တပါး၊အမျိုး၊သား၊ တို့
သည်လည်း၊ဘုရား၊သခင်၏ကရုဏာတော်ကိုထောက်
၍ ချီး၊မွမ်း၊ကြလိမ့်မည်။ ထိုသို့နှင့်အညီကျမ်း
စာထာသည်ကား၊ထိုကြောင့်၊တပါး၊အမျိုး၊သား၊
တို့တွင်ကျေး၊ဇူး၊တော်ကိုအကျွန်ုပ်ချီး၊မွမ်း၍၊နာ
မတော်ကို ထောမနာသီခြင်း၊ဆိုပါမည်ဟု ထာ
၁၀ သတည်း။- တဖန်လာသည်ကား၊ တပါး၊အမျိုး၊
သား၊တို့၊ သင်တို့သည်ဘုရား၊သခင်၏ လူမျိုး၊နှင့်
အတူ ဝမ်း၊မြောက်ခြင်း၊ ရှိကြလော့ဟု လာ၏။-
၁၁ တဖန်ကား၊လူမျိုး၊အပေါင်း၊တို့၊ထာဝရဘုရား၊ကို
ချီး၊မွမ်း၊ကြလော့၊ လူအနွယ် အပေါင်း၊တို့၊ အ
၁၂ သွန် ချီး၊မွမ်း၊ကြလော့ဟုလာ၏။- တဖန်ဟေရှာ
ယဆိုသည်ကား၊ ယေရှဲ၏ အမြစ်ပေါက်၍၊ တ
ပါး၊အမျိုး၊သား၊တို့ကို အုပ်စိုး၊ခြင်း၊ငှါ ပေါ်ထွန်း၊
သောသူဖြစ်လိမ့်မည်၊ထိုသူကိုတပါး၊အမျိုး၊သား၊
တို့သည် ကိုး၊စား၊ကြလိမ့်မည်ဟု ဆိုသတည်း။-
၁၃ သင်တို့သည်သန့်ရှင်း၊သောဝိညာဉ်တော်၏ တန်
ခိုး၊အား၊ဖြင့် မျှော်လင့်ခြင်း၊ပါရမီနှင့် ကြွယ်ဝစေ
ခြင်း၊ငှါ၊ ယုံကြည်သော စိတ် ရှိ၍ ဝမ်း၊မြောက်
သက်သာခြင်း၊ အမျိုး၊မျိုး၊ တို့နှင့် ပြည့်စုံမည် အ
ကြောင်း၊ မျှော်လင့်ခြင်း၏ အရှင်၊ ဘုရား၊သခင်
သည်ကယ်မသနား၊တော်မူပါစေသော။
၁၄ ညီအစ်ကိုတို့၊သင်တို့သည်ကောင်း၊သောသဘော
ရှိသတော့နှင့်ပြည့်စုံ၍အရာရာတို့ကိုသိနား၊လည်
သဖြင့်၊ အချင်း၊ချင်း၊ ဆုံးမခြင်း၊ငှါ တတ်နိုင်သည်
၁၅ ကို ငါ သဘောကျလျက် ရှိ၏။- သို့သော်လည်း၊
၁၆ သန့်ရှင်း၊သော ဝိညာဉ်တော် သည် သန့်ရှင်း၊စေ
တော်မူသော၊ နှစ်သက် ဖွယ်ရာ ပူဇော်သ ကာ
တည်း၊ဟူသော တပါး၊ အမျိုး၊တို့ကို ပူဇော်ခြင်း၊
ငှါ၊ ငါသည် ဘုရား၊သခင်၏ ဧဝံဂေလိ တရား၊ကို
ဟောပြောသော အမှုကို ဆောင်ရွက်၍၊ တပါး၊
အမျိုး၊ သား၊ တို့တွင် ယေရှု ခရစ်၏ အမှုဆောင်
ဖြစ်မည်အကြောင်း၊ ဘုရား၊သခင်သည်ငါ့၌အစ်
ပေး၊တော်မူသော ကျေး၊ဇူး၊တော်ကို ငါအမှီပြု၍၊
ညီအစ်ကိုတို့၊ သင်တို့ကိုသတိပေး၊လျက်သာ၍
၁၇ [illegible] ကြောင့်၊ ဘုရား၊
သခင် [illegible] တရားတို့၌ ငါသည်ယေရှု
ခရစ်ကို အမှီပြု၍ ဝါကြွား၊ ဝမ်း၊မြောက်ခြင်း၊ အ
၁၈ [illegible]၊-တပါး၊အမျိုး၊သား၊တို့သည် စကား၊
၁၉ အား၊ဖြင့်၎င်း၊ အကျင့်အား၊ဖြင့်၎င်း နား၊ထောင်စေ
ခြင်း၊ငှါ၊ ခရစ်တော်သည် နိမိတ်လက္ခဏာ၊ အံ့
ဖွယ်သော အမှုများ၊၌ပါသောတန်ခိုး၊၊ သန့်ရှင်း၊
သောဝိညာဉ်တော်၏တန်ခိုး၊ကိုပြ၍၊ ငါ့အား၊ဖြင့်
ပြုတော်မူသမျှတို့ကိုသာ ငါ ပြောဝံ့၏။ ထိုကျေး၊
ဇူး၊တော်ကို အမှီပြုလျက်၊ ငါသည်ယေရှုရှလင်

မြို့မှစ၍ဣလုရိတ်ပြည်တိုင်အောင်ပတ်ဝန်းကျင်
အရပ်တို့၌ ခရစ်တော်၏ ဧဝံဂေလိတရားကိုအ
၂၀ ကုန်အစင်ဟောပြောခဲ့ပြီ။- ထိုသို့အခြားသူတည်
သောတိုက်မြစ် အပေါ်မှာ ငါထပ်၍ မတည် မ
ဆောက်။ ခရစ်တော်၏နာမကို မကြားဘူးသော
အရပ်၌ ဧဝံဂေလိတရားကို ဟောခြင်းငှါစေတ
၂၁ နာစိတ်နှင့် ငါကြိုးစား အားထုတ်လေ့ရှိ၏။- ထို
သို့နှင့်အညီကျမ်းစာလာသည်ကား၊ထိုသူ၏အ
ကြောင်းကိုအဘယ်သူမျှမပြဘူးသော်လည်း၊သူ
တို့သည်မြင်ကြလိမ့်မည်။ မကြားဘူးသောသူတို့
သည်နားလည်ကြလိမ့်မည်ဟုလာသတည်း။
၂၂ ထိုကြောင့်၊ သင်တို့ရှိရာသို့ ငါလာရသော အ
၂၃ ခွင့်မရှိ၊ အဆီးအတားများလှပြီ။- ယခုမူကား၊
ဤအရပ်တို့၌အခွင့်မရသည်ဖြစ်၍၊သင်တို့ရှိရာ
သို့ သွားခြင်းငှါ တာရှည်စွာ ကာလပတ်လုံး အ
၂၄ လိုရှိသောကြောင့်၊-စပါနိပြည်သို့ငါသွားသော
အခါ၊လမ်းခရီး၌သင်တို့ကိုတွေ့မြင်၍သင်တို့နှင့်
အတူ ပေါင်းဖော်လျက်အတန်အရာ အလိုပြည့်
စုံပြီးမှ၊ ထိုပြည်သို့သင်တို့ပို့ဆောင်ခြင်းကျေးဇူး
၂၅ ကိုခံမည်ဟု မျှော်လင့်၏။- ယခုအခါ သန့်ရှင်း
သူတို့ကိုလုပ်ကျွေး၍၊ ယေရုရှလင်မြို့သို့ငါသွား
၂၆ ရမည်။- အကြောင်းမူကား၊ မာကေဒေါနိပြည်
သားတို့နှင့် အခါယပြည်သားတို့သည်၊ ယေရု
ရှလင်မြို့၌ဆင်းရဲသောသန့်ရှင်းသူတို့အားဥစ္စာ
၂၇ ကိုဝေမျှ၍ဝေတနာစိတ်နှင့်လှူကြပြီ။- စေတနာ
စိတ်ရှိသည်ဟုဆိုသော်၊ထိုသူတို့သည်ကျေးဇူး
တင်သော သူ ဖြစ်ကြ၏။ အကြောင်းမူကား၊ တ
ပါးအမျိုးသားတို့သည် စမ္ပဥစ္စာကို ယူ၍ အမျိုး
သားတို့နှင့် ဆက်ဆံ၍ခံရသည်မှန်လျှင်၊ ထော
၂၈ ကီဥစ္စာကိုလှူ၍ လုပ်ကျွေးအပ်၏။- ထိုကြောင့်၊
ဤအမှုကိုငါဆောင်ရွက်၍ ဤအလှူလက်ဆောင်
ကိုသုံးချစေပြီးလျှင်၊ သင်တို့အနားမှာရှောက်၍
၂၉ စပါနိ ပြည် သို့ သွား မည်။- သင်တို့ ရှိရာသို့ ငါ
ရောက်သောအခါ၊ခရစ်တော်၏ဧဝံဂေလိတရား
၌ပါသော ကောင်းကြီး မင်္ဂလာ ပြည့်စုံခြင်းနှင့်
ရောက်လာမည်ကို ငါသိ၏။
၃၀ ငါသည် ဘုရားသခင် ၏ အလိုတော် အတိုင်း၊
၃၁ ဝမ်းမြောက်သောစိတ်နှင့်သင်တို့ရှိရာသို့ရောက်
၍၊ သင်တို့နှင့်အတူ သက်သာခြင်းကို ခံစားလို
သောငှါ၊ ယုံကြည်ခြင်းဆန့်သောသူတို့လက်မှ
ငါလွတ်မည်အကြောင်း၊ ယေရုရှလင်မြို့အားငါ
လုပ်ကျွေးခြင်းအမှုကို သန့်ရှင်းသူတို့သည် နှစ်
သက် မည် အကြောင်း၊ ညီအစ်ကိုတို့၊ သင် တို့
သည် ငါနှင့်အတူ ကြိုးစား အားထုတ်၍ ငါ့အဖို့
အလို့ငှါ ဘုရားသခင်ကို ဆုတောင်းပဌနာ ပြုကြ
သောငှာ၊ ငါတို့သခင်ယေရှုခရစ်နှင့်ဝိညာဉ်တော်
၏ မေတ္တာကရုဏာကို အကြောင်းပြု၍၊ သင်တို့
၃၂ ကိုငါတိုက်တွန်းနှိုးဆော်ပါ၏။- ငြိမ်သက်ခြင်း
၏အရှင်၊ ဘုရားသခင်သည် သင်တို့ရှိသမျှ နှင့်
အတူတည်နေတော်မူပါစေသော။ အာမင်။

၁၆

၁ ကင်ခြေမြို့ အသင်းတော်၌ သင်းထောက်မိန်း
မဖြစ်သောငါတို့နှမဖိဗေကိုသင်တို့ထံသို့ငါအပ်
၂ ပေး၏။- သန့်ရှင်းသူတို့သည် ပြုသင့်သည် အ
တိုင်း၊ သခင်ဘုရားကိုထောက်၍ထိုသူကိုလက်
ခံကြလော့။ သူသည်အကူအမ လိုသမျှသောအ
မှုတို့၌ သူကိုကူမကြလော့။ အကြောင်းမူကား၊
သူသည် များစွာသောသူတို့ကိုငှင်၊ ငါ့ကိုငှင် မ
၃ သောသူဖြစ်၏။- ငါနှင့်အတူယေရှုခရစ်၏အမှု
တော်ကို ဆောင်ရွက်သောသူ၊ ပြစ်ကိလနှင့်အာ
၄ ကုလကို နှုတ်ဆက်ကြလော့။- ထိုသူတို့သည်ငါ
အသက် အဖို့ မိမိတို့ လည်ပင်းကို ချထားသော
သူ ဖြစ် ကြ၏။ သူတို့ ကျေးဇူး ရှိသည်ဟု၊ ငါတ
ယောက်တည်းသာဝန်ခံသည်မဟုတ်၊တပါးအမျိုး
မျိုးသား အသင်းတော် အပေါင်းတို့သည် ဝန်ခံ
၅ ကြ၏။- သူတို့ အိမ်၌ရှိသော အ သင်း တော်ကို
လည်းနှုတ်ဆက်ကြလော့။ အာရှိပြည်တွင်ခရစ်
အဖို့ အဦး သီးသောအသီးဖြစ်သော ငါချစ်သော
၆ ဧပဲနက်ကို နှုတ်ဆက်ကြလော့။- ငါတို့ အမှုကို
ကြိုးစား၍ ဆောင်ရွက်သောမာရိကို နှုတ်ဆက်
၇ ကြလော့။-ငါနှင့်အတူအကျဉ်းခံရသောသူ၊ငါ
အမျိုးသား ချင်း အန္ဒြောနိတ်နှင့် ယုနိကို နှုတ်
ဆက်ကြလော့။ ထိုသူတို့သည် တမန်တော်များ
တွင်အသရေထင်ရှားသောသူဖြစ်ကြ၏။ငါ့ရှေ့
တပည့် တော် အဖြစ် သို့ ရောက် သော သူလည်း
၈ ဖြစ်ကြ၏။- သခင်ဘုရား၌ ချစ်သား အမ္ပလိကို
၉ နှုတ်ဆက်ကြလော့။ ငါတို့နှင့်အတူခရစ်တော်၏
အမှုကိုဆောင်ရွက်သောဥရဗန်နှင့်၊ ချစ်သား
၁၀ သတာခုကို နှုတ်ဆက်ကြလော့။- တပည့်တော်
စစ်ဖြစ်သော အပေလေ နှင့် အာရိတ္တောဗုလု၏
အိမ်သူအိမ်သား တို့ကို နှုတ်ဆက် ကြလော့။-
၁၁ ငါ၏အဆွေအမျိုးဟေရောဒျန်နှင့်တပည့်တော်
ဖြစ်သောနာကိသု၏အိမ်သူအိမ်သားတို့ကိုနှုတ်
၁၂ ဆက်ကြလော့။- သခင်ဘုရား၏ အမှုတော်ကို

ကြိုးစားသော မိန်းမ၊ တရုဖဲနနှင့် တရုဖေါသ ကို
ငှင်၊ သခင်ဘုရား၏အမှုတော်ကိုအလွန်ကြိုးစား
၍ချစ်အပ်သောမိန်းမ၊ ပေရသိကိုငှင် နှုတ်ဆက်ကြ
၁၃ လော့။- ရွေးကောက်တော်မူသော ရုဖုနှင့် သူ၏
အမိတည်း ဟူသော ငါ၏ အမိကို နှုတ်ဆက်ကြ
၁၄ လော့။- အသုံကြိတ်၊ ဖလေကုန်၊ ဟေရမ၊ ပတ်
ရောဘ၊ ဟေရမေမှစ၍ သူတို့နှင့်အတူနေသော
၁၅ ညီအစ်ကိုတို့ကို နှုတ်ဆက်ကြလော့။- ဖိလော
လုပ်၊ ယုလိ၊ နေရု၊ နေရုနှစ်မနှင့်ဩလုမ္ပမှစ၍သူ
တို့နှင့်အတူနေသောသန့်ရှင်းသူအပေါင်းတို့ကို
၁၆ နှုတ်ဆက်ကြလော့။- အချင်းချင်း တယောက်
ကို တယောက် သန့်ရှင်းသော နမ်းခြင်းနှင့် နှုတ်
ဆက် ကြလော့။ ခရစ်တော်၏ အသင်းတော်အ
ပေါင်းတို့သည်သင်တို့နှင့်နှုတ်ဆက်ကြ၏။
၁၇ ညီအစ်ကိုတို့၊ သင်တို့ခံရပြီးသောဆုံးမဩဝါဒ
နှင့် ဆန့်ကျင်ဘက် ဖြစ်သော သင်းခွဲခြင်း၊ မှား
ယွင်းခြင်းအကြောင်းကို ပြုတတ်သော သူတို့ကို
၁၈ မှတ်၍ ရှောင်ကြလော့ဟု ငါသတိပေး၏။- အ
ကြောင်းမူကား၊ ထိုသို့သော သူတို့သည် ငါတို့
သခင် ခရစ်တော်၏ အမှုကို မဆောင်ရွက်ဘဲ
လျှင်၊ မိမိတို့ဝမ်း၏အမှုကိုသာ ဆောင်ရွက်၍၊
ချော ကဝတ်စကားနှင့် ချော့မော့သော စကား
အားဖြင့် မိတ်ကောင်းသောသူတို့ကို လှည့်ဖြား
၁၉ တတ်ကြ၏။- သင်တို့ယုံကြည်နားထောင်ခြင်းအ
ကြောင်း အရာသည် လူအပေါင်းတို့တွင် ကျော်
စောသည် ဖြစ်၍၊ ငါဝမ်းမြောက် ခြင်းရှိ၏။ သို့
သော်လည်း၊ သင်တို့သည် ကောင်းသောအမှု၌
ကား၊ ပညာ ရှိစေခြင်းငှါ ငှင်၊ ဆိုးသော အမှု၌
ကား၊ အပြစ် ကင်းစေခြင်းငှါငှင် ငါ အလိုရှိ၏။-
၂၀ ငြိမ်သက်ခြင်း၏အရှင်၊ ဘုရားသခင်သည်မကြာ
မမြင့်မီစာတန်ကိုသင်တို့ခြေအောက်၌ နှိပ်စက်
တော်မူမည်။ ငါတို့သခင်ယေရှုခရစ်၏ကျေးဇူး
တော်သည်သင်တို့၌ရှိပါစေသော။
၂၁ ငါနှင့်အတူအမှုတော်ကိုဆောင်ရွက်သောတိ
မောသေမှစ၍ငါ၏အဆွေအမျိုးလုကိ၊ယာသုန်၊
သောသိပတရုတို့သည်သင်တို့ကိုနှုတ်ဆက်ကြ
၂၂ ၏။- ဤစာကို ရေးသော ကျွန်ုပ် တေရတိ သည်
သခင်ဘုရားကိုထောက်၍ သင်တို့ကိုနှုတ်ဆက်
၂၃ ပါ၏။- ငါကိုငှင်၊ သင်းဝင်သူ အပေါင်းတို့ကိုငှင်
ထက်ခံ၍ ဧည့်သည်ဝတ်ကိုပြုတတ်သောဂါယု၊
မြို့စာရေး ဧရတ္တု၊ သင် တို့ ညီ ကွာတု တို့သည်
၂၄ သင်တို့ကို နှုတ်ဆက်ကြ၏။- ငါတို့သခင်ယေရှု
ခရစ်၏ကျေးဇူးတော်သည်သင်တို့အပေါင်း၌ရှိ
စေသတည်း။ အာမင်။
၂၅ ရှေးကာလ ကာလ ပတ်လုံး ဝှက်ထား ပြီး လျှင်
၂၆ ယခုမှာထင်ရှားသည်ဖြစ်၍၊ လူမျိုးအပေါင်းတို့
သည် ယုံကြည်နားထောင်ကြမည် အကြောင်း
ပရောဖက်တို့၏ကျမ်းစာမှာပါသည်နှင့်အညီ၊
ထာဝရ ဘုရားသခင်၏ ပညတ်တော်အတိုင်းထို
သူတို့အား ဖော်ပြ ရသော နက်နဲရာကို ဖွင့် ထား
ခြင်းကျေးဇူးတော်နှင့်လျော်စွာ၊ ငါဟောသော
ဧဝံဂေလိတရားတည်းဟူသောယေရှုခရစ်၏အ
ကြောင်းကိုဟောပြောခြင်းအားဖြင့်၊ သင်တို့ကို
မြဲမြံ နိုင်ခံ့စေခြင်းငှါ တတ်နိုင်တော်မူသော အ
၂၇ ရှင်၊- တဆူတည်း သာလျှင် ပညာနှင့် ပြည့်စုံ
တော်မူသောဘုရားသခင်သည်၊ယေရှုခရစ်အား
ဖြင့် ကမ္ဘာအဆက်ဆက်ဘုန်းကြီးတော်မူစေသ
တည်း။ အာမင်။

ရောမဩဝါဒစာပြီး၏။

# ကောရိန္သုဩဝါဒစာ ပဌမစောင်။

## FIRST EPISTLE TO THE CORINTHIANS.

၁

၁ ဘုရားသခင်၏အလိုတော်အားဖြင့်ယေရှုခရစ်
၏တမန်တော်အရာ၌ခန့်ထားသောငါပေါလုနှင့်
၂ ညီသုသထင်သည်။— ယေရှုခရစ်အားဖြင့်အပြစ်
နှင့်ကင်းစင်၍သန့်ရှင်းသူအရာ၌ ခန့်ထားသော
သူတစ်ပေါင်းဟူသော၊ ကောရိန္သုမြို့၌ရှိသောဘုရား
သခင်၏ အသင်းတော်မှစ၍၊ ခပ်သိမ်းသောအ
ရပ်၌ငါတို့သခင်ယေရှုခရစ်ကိုပဌနာပြုသောသူ
၃ အပေါင်းတို့ကိုကြားလိုတ်ပါ၏။-ထိုသခင်ထဝ်
ငါတို့၏သခင်သာမဟုတ်၊ သင်တို့၏သခင်ထဝ်း
ဖြစ်တော်မူ၏။ ထခင် ယေရှု ခရစ်နှင့် ငါတို့အဖ
တည်းဟူသောဘုရားသခင် အထံတော်ကကျေး
ဇူးတော်နှင့် ငြိမ်သက်ခြင်းသည် သင်တို့၌ ရှိပါ
စေသော။
၆ အထင်က ခရစ် တော် ၏ သက် သေ ကို သင်
၅ တို့တွင်တည် စေသည်ရှိသော်၊ သင်တို့သည် ထို
၄ ခရစ် တော် အား ဖြင့်၊ အ ရာ ရာ ၌ နှုတ် သ တ္တိ၊
ညာဏ်သတ္တိ အပေါင်းနှင့် ကြွယ်ဝ ပြည့်စုံ ကြ
သည်ဖြစ်၍၊ယေရှုခရစ်အားဖြင့်သင်တို့အားပေး
တော်မူသောကျေးဇူးတော်ကို ငါထောက်၍၊
သင်တို့အကြောင်းကြောင့်ဘုရားသခင်၏ကျေး
၇ ဇူးတော်ကိုအစဉ်မပြတ်ချီးမွမ်း၏။-ထိုကြောင့်၊
သင်တို့သည်ငါတို့သခင်ယေရှုခရစ်၏ပေါ်ထွန်း
တော် မူခြင်း ကို မျှော်ထင့် ၍ နေစဉ်၊ ဆုတော်
တစုံ တခု မျှ မ လျော့ဘဲ စုံလင်လျက် ရှိကြ၏။-
၈ သင်တို့သည် ငါတို့သခင်ယေရှုခရစ်၏ နေ့ရက်၌
အပြစ် တစ်စုံ အခွင့် နှင့် ကင်း လွတ်မည် အ
ကြောင်း၊ သင် တို့ ကို အဆုံး တိုင် အောင် မြဲ ခိုင်
၉ ငြိမြဲစေတော်မူလိမ့်မည်။- ငါတို့ သခင် တည်း
ဟူသော သားတော် ယေရှု ခရစ် နှင့်
ဆက်ဆံ ခြင်းကျေးဇူးတော်ကို သင်တို့အားပေး
တော်မူသောဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံ
တော်မူ၏။
၁၀ ညီအစ်ကိုတို့၊ သင်တို့ရှိသမျှသည် စကား တ
ညီတညွတ်တည်းဖြစ်၍ အချင်းချင်းမကွဲပြားဘဲ
စိတ်သဘော တသံ တသမတ်တည်း ရှိသည်နှင့်
ခွေစပ် စုံလင် ကြမည် အကြောင်း၊ ငါ တို့ သခင်
ယေရှုခရစ်၏ နာမတော်ကိုအမှီပြု၍ သင်တို့ကို
၁၁ ငါ နှိုးဆော် တောင်းပန် ပါ၏။— အကြောင်းမူ
ကား၊ညီအစ်ကိုတို့၊ သင်တို့သည်အချင်းချင်းအ
ထင့်ရန်ငြင်းခုံခြင်းရှိသည်ကို၊ ခလောဧ၏အိမ်သား
၁၂ အချို့တို့သည်ပြောကြ၏။- သင်တို့က၊ ငါသည်
ပေါလုတပည့်ဖြစ်၏၊ငါသည်အာပေါလုတပည့်
ဖြစ်၏၊ငါသည်ကေဖတပည့်ဖြစ်၏၊ ငါသည်ခရစ်
တော် တပည့်ဖြစ်၏ဟု၊ အသီးအသီး ပြော ကြ
၁၃ သောကြောင့် ငါဆိုရ၏။— ခရစ်တော် သည် ကွဲ
ပြားသလော၊ ပေါလုသည်သင်တို့အတွက်လက်
ဝါးကပ်တိုင်မှာ အသေ ခံပြီလော၊ သို့မဟုတ်၊
သင်တို့သည် ပေါလု၏နာမ၌ နှစ်ခြင်းကိုခံကြပြီ
၁၄ လော။- ကရိစ္စုနှင့်ဂါယုမှတပါး၊သင်တို့တွင်အ
ထယ်သူအားမျှနှစ်ခြင်းကိုငါမပေးသည်ဖြစ်၍၊
၁၅ ဘုရားသခင်၏ကျေးဇူးတော်ရှိပါ၏။— သို့ဖြစ်၍၊
ပေါလုသည် မိမိနာမ၌နှစ်ခြင်းကိုပေးသည်ဟု၊
၁၆ အထယ်သူမျှ ဆိုစရာအကြောင်းမရှိ။-သတေဖနု
၏ အိမ်သူ အိမ်သားတို့ အားလည်း နှစ်ခြင်းကို
ပေးပြီ။ထိုမှတပါး၊အခြားသောသူအားနှစ်ခြင်း
ပေးသည်ကိုငါမမှတ်မိ။
၁၇ နှစ်ခြင်းကို ပေးစေခြင်းငှါ ခရစ်တော်သည်င
ကိုစေလွှတ်တော်မူသည်မဟုတ်၊ဧဝံဂေလိတရား
ကိုဟောစေခြင်းငှါစေလွှတ်တော်မူ၏။ သို့သော်
လည်း၊ ခရစ်တော်၏ လက်ဝါးကပ် တိုင်ကို အ
ချည်းနှီးမဖြစ်စေခြင်းငှါ၊ နှုတ်ပညာကိုအခွင့်မ
၁၈ ပေးဘဲနေတော်မူ၏။-အကြောင်းမူကား၊ဆုံးရှုံး
ခြင်းသို့ ရောက်သောသူတို့၌ လက်ဝါးကပ်တိုင်
တော်တရားသည်မိုက်သောတရားဖြစ်၏။ ကယ်
တင်ခြင်းသို့ရောက်သောငါတို့၌ ထိုတရားသည်
၁၉ ဘုရား သခင်၏ တန်ခိုးတော် ဖြစ်၏။- ကျမ်းစာ
ထားသည်ကား၊ ပညာ ရှိတို့၏ ပညာ ကို ငါဖျက်
ဆီးမည်၊ ညာဏ်ကောင်း သောသူတို့၏ ညာဏ်
၂၀ ကိုလည်း၊ငါပယ်မည်ဟုလာသတည်း။-ပညာ
ရှိကား၊ အဘယ်မှာ ရှိသနည်း။ ကျမ်းပြု ဆရာ
ကား၊ အ ထယ်မှာ ရှိ သ နည်း။ ပြိုင်နာ၌ လော
ကွက်သော ဆရာကား၊ အထယ်မှာ ရှိသနည်း။
လောကီပညာကိုဘုရားသခင်ထဝ်မိုက်စေတော်

၂၁ မူသည် မဟုတ်လော။- အဘယ်သို့နည်း ဟူမူ
ကား၊ ဘုရားသခင်၏ ပညာတော်စီရင်သည်နှင့်
အညီ၊ လောကီသားတို့သည် မိမိတို့ ပညာအား
ဖြင့် ဘုရားသခင်ကို မသိဘဲ နေကြသောအခါ၊
ဘုရားသခင်သည် ယုံကြည်သောသူတို့ကို ဒေသ
နာတော် မိုက်မဲခြင်းအားဖြင့် ကယ်တင်ခြင်းငှါ
၂၂ စေတနာရှိတော်မူ၏။- ယုဒလူတို့သည် နိမိတ်
လက္ခဏာကို တောင်းတတ်ကြ၏၊ ဟေလသလူ
၂၃ တို့သည်ပညာကိုရှာတတ်ကြ၏။- ငါတို့မူကား၊
လက်ဝါးကပ်တိုင်မှာအသေခံတော်မူသောခရစ်
တော်၏အကြောင်းအရာကိုဟောပြောကြ၏။ထို
အကြောင်းအရာသည်ကား၊ယုဒအမျိုးသားတို့ထိ
မိ၍လဲစရာအကြောင်းဖြစ်၏။ တပါးအမျိုးသား
၂၄ တို့ကား၊မိုက်မဲခြင်းဖြစ်၏။-သို့သော်လည်း၊ယုဒလူ
ဖြစ်စေ၊ဟေလသလူဖြစ်စေ၊ခေါ်တော်မူသောသူ
တို့၌ဘုရားသခင်၏တန်ခိုးတော်နှင့်ဘုရားသခင်
၏ပညာတော်တည်းဟူသောခရစ်တော်၏အရာ
၂၅ ဖြစ်၏။-ဘုရားသခင်၏မိုက်မဲခြင်းအရာသည်လူ
တို့၏ပညာထက်သာ၍ပညာရှိ၏။ဘုရားသခင်၏
အားနည်းခြင်းအရာသည်လူတို့၏အစွမ်းထက်
သာ၍အစွမ်းရှိ၏။
၂၆ ညီအစ်ကိုတို့၊ သင်တို့ကို ခေါ်တော်မူခြင်း အ
ကြောင်းအရာကို ဆင်ခြင်ကြလော့။ ခေါ်တော်မူ
သောသူတို့တွင်လောကီပညာရှိအများမပါ။ထင်
ရှားသောလူကြီးအများမပါ။ မင်းအမျိုးအနွယ်
၂၇ ဖြစ်သော သူ အများ မပါ။- ဘုရား သခင်သည်
ပညာရှိတို့ကို ရှက်ကြောက်စေခြင်းငှါ၊ လောကီ
အရာ၌ မိုက်မဲသောသူတို့ကို ရွေးကောက်တော်
မူ၏။အစွမ်းသတ္တိရှိသောသူတို့ကိုရှက်ကြောက်
စေခြင်းငှါ၊ လောကီအရာ၌ အားနည်းသောသူ
၂၈ တို့ကိုရွေးကောက်တော်မူ၏။- မြတ်သောသူတို့
ကိုရှက်ကြောက်စေခြင်းငှါလောကီအရာ၌ဆင်း
ရဲသောသူ၊ မရေရသောသူ၊ ယုတ်သောသူတို့ကို
၂၉ ရွေးကောက်တော်မူ၏။-ထိုကြောင့်၊ဘုရားသခင်
ရှေ့၌ အဘယ် သူမျှ ဝါကြွားစရာ အကြောင်းမ
၃၀ ရှိ။-ထိုဘုရားသခင်အားဖြင့်သင်တို့သည်ယေရှု
ခရစ်၌ တည်နေကြ၏။ ထိုသခင် မူကား၊ ဘုရား
သခင် စီရင်တော်မူသည်အတိုင်း၊ ငါတို့၌ပညာ
မှစ၍ ဖြောင့်မတ်ခြင်း၊ သန့်ရှင်းခြင်း၊ ရွေးနုတ်
၃၁ ခြင်းဖြစ်တော်မူ၏။- သို့ဖြစ်၍၊ကျမ်းစာလာသည်
နှင့်အညီ၊ ဝါကြွားသောသူမည်သည်ကား၊ ထာ
ဝရဘုရား၌သာဝါကြွားစေ။

၁ ညီအစ်ကိုတို့၊ ငါသည်သင်တို့ရှိရာသို့ရောက်
လာသောအခါ၊ ဘုရားသခင်၏ သက်သေ ချက်
ကိုထူးမြတ်သောစကားနှင့် ထူးမြတ်သောပညာ
အားဖြင့်သင်တို့အားပြသ၍ရောက်လာသည်မ
၂ ဟုတ်။- အကြောင်းမူကား၊ ယေရှုခရစ်တည်း
ဟူသော လက်ဝါးကပ်တိုင်မှာ အသေခံတော်မူ
သောသခင်မှတပါး၊ အဘယ်အရာကိုမျှ သင်တို့
တွင်ငါမသိမှတ်ဟု၊ငါစိတ်ပြဋ္ဌာန်းခြင်းရှိ၏။-
၃ သင်တို့နှင့်အတူ ငါရှိနေသောအခါ၊ အားနည်း
ခြင်း၊ အလွန်ကြောက်ရွံ့တုန်လှုပ်ခြင်းနှင့်တကွ
၄ ငါရှိနေ၏။-သင်တို့၏ယုံကြည်ခြင်းသည်လူပညာ
၅ အားဖြင့်မတည်၊ဘုရားသခင်၏တန်ခိုးတော်အား
ဖြင့်တည်စေခြင်းငှါ၊ ငါ့စကား၊ ငါ့ဒေသနာသည်
လူပညာနှင့်ယှဉ်သောဖြားယောင်းသောစကား
နှင့်တကွ ရှိသည်မဟုတ်၊ ဝိညာဉ်တော်၏နိမိတ်
လက္ခဏာတန်ခိုးတော်နှင့်တကွရှိ၏။
၆ သို့သော်လည်း၊ စုံလင်သောသူတို့အား ငါတို့
သည် ပညာ စကားကို ဟောပြော၏၊ ထိုသို့ဆို
သော်၊ လောကီ ပညာကို မဆိုလို၊ ပြယ်ပျောက်
တတ်သောလောကီမင်းတို့၏ ပညာကိုမဆိုလို။-
၇ ဤကမ္ဘာ မတည်မရှိမှီ၊ ငါတို့၏ ဘုန်း အသရေ
ဖြစ်စေခြင်းငှါ၊ ဘုရားသခင် စီရင်တော်မူသော
ပညာ၊ နက်နဲသောအရာ၌ဝှက်ထားသောဘုရား
၈ သခင်၏ ပညာကို ငါ တို့သည် ပြသ ကြ၏။- ထို
ပညာကိုလောကီမင်းတစုံတယောက်မျှမသိ။သိ
လျှင်၊ ဘုန်းကြီးတော်မူသော သခင်ကိုလက်ဝါး
၉ ကပ်တိုင်မှာ မကွပ်မျက်ကြပြီ။- ကျမ်းစာလာ
သည်နှင့်အညီ၊ ဘုရားသခင်ကို ချစ်သော သူတို့
အဖို့အလို့ငှါ၊ ဘုရားသခင်ပြင်ဆင်တော်မူသော
အရာတို့ကိုလူမျက်စိဖြင့်မမြင်၊ နားဖြင့်မကြား၊
၁၀ စိတ်နှလုံးဖြင့်မကြံစည်သေး။- ထိုအရာတို့ကို
ဘုရားသခင်သည် မိမိဝိညာဉ်တော်အားဖြင့် ငါ
တို့အား ဖော်ပြတော်မူ၏။ ဝိညာဉ် တော် သည်
ဘုရားသခင်၏နက်နဲသောအရာတိုင်အောင် ခပ်
၁၁ သိမ်းသောအရာတို့ကိုစစ်တော်မူ၏။-လူ၏နက်နဲ
သောအရာကိုလူ၌ရှိသောမိမိစိတ်ဝိညာဉ်မှတပါး
အဘယ်သူသိသနည်း။ ထိုနည်းတူ၊ဘုရားသခင်
၏ နက်နဲသောအရာကို ဘုရားသခင် ၏ ဝိညာဉ်
၁၂ တော်မှတပါး အဘယ်သူမျှမသိ။- ငါ တို့သည်
လောကီ ဝိညာဉ်ကိုမခံရကြ၊ ဘုရားသခင် ပေး
တော်မူသောအရာတို့ကိုသိခြင်းအလို့ငှါ၊ဘုရား

သခင် ထံမှ ကြွလာသော ဝိညာဉ်ကို ခံရကြပြီ။-
၁၃ ဘုရားသခင်ပေးတော်မူသော အရာတို့ကို၊ ငါတို့
သည် လူပညာကို အမှီပြု၍ နားလည်သော စကား
နှင့်မဟော၊ သန့်ရှင်းသော ဝိညာဉ်တော်သည်
ဝိညာဉ်နှင့်စပ်ဆိုင်သော အရာကို ဝိညာဉ်စကား
အားဖြင့် ပွင့်ပြ၍ ခွဲဖွင့်တော်မူသော စကားနှင့်
၁၄ ငါတို့သည် ဟောကြ၏။- ဇာတိပကတိလူသည်
ဘုရားသခင်၏ဝိညာဉ်တော် အရာတို့ကိုမခံမယူ၊
ထိုအရာတို့သည် မိုက်မဲသော အရာဖြစ်သည်ဟု
ထင်တတ်၏၊ ထိုအရာတို့ကိုဝိညာဉ်အားဖြင့်သာ
ပိုင်းခြား၍ နားလည် နိုင်သော ကြောင့်၊ ဇာတိ
၁၅ ပကတိလူသည် နားမလည်နိုင်။- ဝိညာဉ် လူမူ
ကား၊ ထိုအရာ အလုံးစုံ တို့ကို ပိုင်းခြား၍ နား
လည်တတ်၏၊ သို့သော်လည်း၊ ထိုလူကိုအဘယ်
၁၆ သူမျှ ပိုင်းခြား၍ မသိနိုင်။-ထိုလူကိုသွန်သင်နိုင်
မည်အကြောင်း၊ အဘယ်သူသည်ထာဝရဘုရား
၏ စိတ်တော်ကို သိသနည်း၊ ငါတို့မူကား၊ ခရစ်
တော်၏စိတ်ကိုခံရကြ၏။

၃

၁ ညီအစ်ကိုတို့၊ အထက်က ငါသည် ဝိညာဉ်လူ
တို့အား ဟောပြောသကဲ့သို့ သင်တို့အား ဟော
ပြောရသော အခွင့်မရှိဘဲ၊ ဇာတိ ပကတိ လူတို့
အားငှင်၊ ခရစ်တော်၌ သူငယ် ကလေး တို့အား
၂ ငှင်၊ ဟောပြောသကဲ့သို့ ဟောပြောရ၏။- ယခု
တိုင်အောင် သင်တို့ သည် ခဲဖွယ် စားဖွယ်ကို မ
ကြေ နိုင် သော ကြောင့် ငါ မကျွေးရ၊ နို့ကို သာ
တိုက်ရ၏၊ ယခုပင်လည်း၊ သင်တို့သည် မကြေ
၃ နိုင်ကြသေး။- ယခုပင်လည်း၊ ဇာတိပကတိလူ
ဖြစ်ကြသေး၏၊ ငြူစူခြင်း၊ ရန်တွေ့ခြင်း၊ အ
ချင်းချင်းကွဲပြားခြင်းရှိသည်ဖြစ်၍၊ သင်တို့သည်
ဇာတိ ပကတိ လူ ဖြစ် ကြသည် မဟုတ် လော၊
လောကီ ထုံးစံ အတိုင်း ကျင့် ဆောင် ကြ သည် မ
၄ ဟုတ်လော၊- တယောက်က၊ ငါသည်ပေါလုတ
ပည့်ဖြစ်၏ဟု၍ငှင်၊ တယောက်က၊ ငါသည်အာ
ပေါလုတပည့်ဖြစ်၏ဟု၍ငှင်၊ အသီးအသီးပြော
ကြလျှင်၊ ဇာတိပကတိလူ ဖြစ်ကြသည်မဟုတ်
လော။
၅ ပေါလုကား အဘယ်သူနည်း၊ အာပေါလုကား
အဘယ်သူနည်း၊ အခြားသောသူမဟုတ်၊ ထာ
ဝရ ဘုရား သည် အ သီး အ သီး တို့ အား အ ခွင့်
ပေးသ နား တော် မူသည် နှင့် အညီ၊ သင်တို့ ကို
ယုံ ကြည် ခြင်းသို့ ရောက် စေသော စေ့ဆရာ ပေ
၆ တည်။- ငါသည်မိုက်ပျိုးသောသူဖြစ်၏၊ အာ
ပေါလုသည် ရေလောင်းသော သူဖြစ်၏၊ အပင်
ကို ကြီးပွားစေသော သူကား၊ ဘုရားသခင်ပေ
၇ တည်း။- မိုက်ပျိုးသောသူမတတ်နိုင်၊ ရေလောင်း
သောသူလည်း မတတ်နိုင်၊ ကြီးပွားစေတော်မူ
သောဘုရားသခင်သာလျှင်တတ်နိုင်တော်မူ၏။-
၈ သို့သော်လည်း၊ မိုက်ပျိုးသောသူနှင့် ရေလောင်း
သောသူသည်တလုံးတဝတည်းဖြစ်၍၊ အသီးအ
သီးမိမိလုပ်သည်အတိုင်း မိမိအကျိုးကိုခံရလိမ့်
၉ မည်။- ငါတို့သည်ဘုရားသခင်ထံ၌အလုပ်လုပ်
သောသူချင်းဖြစ်ကြ၏၊ သင်တို့သည်ဘုရားသခင်
၏ဥယျာဉ်တော်ဖြစ်ကြ၏၊ ဘုရားသခင်၏ကျောင်း
၁၀ တော် တိုက်လည်း ဖြစ်ကြ၏။- ဘုရား သခင်၏
ကျေးဇူးတော်ကို ငါ ခံရသည် နှင့်အညီ၊ လိမ္မာ
သောဗိသုကာကဲ့သို့တိုက်မြစ်ကိုချပြီ၊ အခြား
သောသူသည်ထပ်ဆင့်၍ တည်ဆောက်လေ၏၊
သို့ရာတွင်၊ အဘယ်သို့ထပ်ဆင့်၍တည်ဆောက်
၁၁ သည် ကို လူတိုင်း သတိပြုပါစေ။- အကြောင်း
မူကား၊ ယေရှုခရစ် တည်းဟူသော၊ ချထားပြီး ရှိ
သော တိုက်မြစ်မှတပါး အခြားသော တိုက်မြစ်
၁၂ ကိုအဘယ်သူမျှမချနိုင်။- ထိုတိုက်မြစ်အပေါ်၌
ရွှေငွေ၊ ကျောက်ကောင်း၊ သစ်သား၊ မြက်ပင်၊
ကောက်ရိုးရှားကို ထပ်ဆင့်၍ တည် ဆောက်
၁၃ သောသူရှိသမျှ၊- အသီးအသီးလုပ်သောအလုပ်
သည်ထင်ရှားလိမ့်မည်၊ အဘယ်သို့နည်းဟူမူ
ကား၊ စော်ပြမှိန်နေ့ရက်သည် မီးအားဖြင့်ထင်
ရှား စေလိမ့် မည်၊ လူ တိုင်း လုပ် သော အ လုပ်
သည် အဘယ်သို့သော အလုပ် ဖြစ်သည်ကို မီး
၁၄ သည်စစ်ကြောစုံစမ်းလိမ့်မည်။- ထိုတိုက်မြစ်အ
ပေါ်၌ထပ်ဆင့်၍ တည်ဆောက်သောအကြင်သူ
၏ အလုပ်သည်မြဲ၏၊ ထိုသူသည် အကျိုးကိုခံရ
၁၅ လိမ့်မည်။- အကြင် သူ၏ အ လုပ် သည် ကျွမ်း
လောင်၏၊ ထို သူသည် အရှုံး ခံရလိမ့် မည်၊ သို့
သော်လည်း၊ မီးနှင့် လွတ်သကဲ့သို့သူသည်ကယ်
တင်ခြင်းသို့ရောက်လိမ့်မည်။
၁၆ သင်တို့သည်ဘုရားသခင်၏ ဗိမာန်တော်ဖြစ်
ကြ သည်ကိုငှင်၊ ဘုရား သခင်၏ ဝိညာဉ်တော်
သည် သင်တို့အထဲ၌ ကျိန်းဝပ်တော်မူသည်ကို
၁၇ ငှင် မသိကြ သလော။- အကြင်သူသည် ဘုရား
သခင်၏ ဗိမာန် တော်ကို ဖျက်ဆီး၏၊ ထိုသူကို
ဘုရားသခင် ဖျက်ဆီးတော် မူလိမ့်မည်၊ ဘုရား
သခင်၏ ဗိမာန်တော်သည် သန့်ရှင်းရ၏၊ သင်

၁၈ တို့သည်လည်း၊ ထိုမိတ်မှန်တော်ဖြစ်ကြ၏။- အ
ထယ်သူမျှကိုယ်ကို မလှည့်ဖြားစေနှင့်။ သင်တို့
တွင် အကြင်သူသည် ဤလောက၌ ပညာရှိဖြစ်
သည်ဟုကိုယ်ကိုထင်၏၊ထိုသူသည်ပညာရှိအ
၁၉ ဖြစ်သို့ရောက်လိုသော်ငါ လူမိုက်ဖြစ်ပါစေ။- အ
ကြောင်းမူကား၊လောကီပညာသည်ဘုရားသခင်
ရှေ့၌ မိုက်မဲခြင်း ဖြစ်၏။ ကျမ်းစာလာသည်
ကား၊ ဘုရားသခင်သည် ပညာရှိတို့ကို သူတို့၏
ပရိယာယ်အားဖြင့်ဖမ်းဆီးတော်မူ၏ဟုလာသ
၂၀ တည်း။-တဖန်တုံ၊ပညာရှိတို့၏အကြံအစည်တို့
သည်အချည်းနှီးဖြစ်ကြောင်းကို ထာဝရဘုရား
၂၁ သိတော်မူ၏ဟုလာသတည်း။- ထိုသို့ဖြစ်လျှင်၊
အထယ်သူမျှလူတို့၌ဝါကြွားခြင်းမရှိစေနှင့်။ခပ်
သိမ်းသောအရာတို့သည်သင်တို့အဘို့ဖြစ်ကြ၏။-
၂၂ ပေါလုဖြစ်စေ၊ အာပေါလုဖြစ်စေ၊ ကေဖဖြစ်စေ၊
ဤလောကဖြစ်စေ၊ အသက်ရှင်ခြင်းဖြစ်စေ၊သေ
ခြင်းဖြစ်စေ၊ မျက်မှောက်အရာဖြစ်စေ၊ နောက်
ထာလတံ့သောအရာဖြစ်စေ၊ ခပ်သိမ်းသောအ
၂၃ ရာတို့သည်သင်တို့အဘို့ဖြစ်ကြ၏။- သင်တို့သည်
ထည်း၊ ခရစ်တော်အဘို့ ဖြစ်ကြ၏။ ခရစ်တော်
သည်ထည်း၊ဘုရားသခင်အဘို့ဖြစ်တော်မူ၏။

၄

၁ ခရစ်တော်၏အစေအပါကဲ့သို့၎င်း၊ဘုရားသခင်
၏နက်နဲသောအရာတို့ကို စောင့်သော အထွာမိုး
၂ ကဲ့သို့၎င်း၊သူတပါးသည်ငါတို့ကိုမှတ်ပါစေ။-ထို
မှတပါး၊ အထွာမိုးမည်သည်ကား၊ သစ္စာရှိရ
၃ မည်။-သင်တို့မှစ၍အခြားသောလူများတို့သည်
ငါ့ကိုသစ္စာမရှိဟု စီရင်သော်ထည်း၊ ငါသည်အ
၄ မှုမထား။ ငါ့ကိုယ်ကို ငါမစီရင်။- အကြောင်းမူ
ကား၊ကိုယ်စိတ်သည်ကိုယ်ကိုအပြစ်မတင်းသို့
သော်ထည်း၊ ထိုအကြောင်းဖြင့် ငါသည်အပြစ်
လွတ်သည်မဟုတ်။ငါ့ကိုစီရင်သောသူကား၊ထာ
၅ ဝရဘုရားပေတည်း။-ထိုသို့ဖြစ်လျှင်မှောင်မိုက်
၌ဝှက်ထားသောအရာတို့ကိုပွင့်လင်းစေ၍၊ စိတ်
နှလုံး၏ အကြံ အစည်များကို ထင်ရှားစေလတံ့
သောသခင်ဘုရားကြွလာတော်မမူမှီတိုင်အောင်
အထယ်အမှုကိုမျှ အဆုံးအဖြတ်မစီရင်ကြနှင့်။
ကြွလာတော်မူသောအခါ၊ အသီးအသီးတို့သည်
ဘုရားသခင်ရှိ ချီးမွမ်းတော်မူခြင်းကျေးဇူးကိုခံရ
ကြလတံ့။
၆ ညီအစ်ကိုတို့၊သင်တို့သည်ကျမ်းစာကိုလွန်၍
သူတပါးကို မရှုံသေအပ်ဟု ငါတို့ကိုထောက်၍
နားလည်စေခြင်းငှါ၎င်း၊ မာနစိတ်ထောင်လွှား
သည်နှင့်တယောက်ကိုမြှောက်၍တယောက်ကိုငြင်း
ဆန်ခြင်းမရှိစေခြင်းငှါ၎င်း၊ ငါဆိုခဲ့ပြီးသော အ
ချက်၌သင်တို့၏အကျိုးကိုထောက်၍၊ငါနှင့်အာ
၇ ပေါလုကိုပုံဆောင်လျက်ဆိုသတည်း။- ထိုမှတ
ပါး၊ အထယ်သူသည် သင့်ကို ထူးခြားစေသ
နည်း။ သူတပါး လက်မှ မခံ မယူဘဲအလို အ
လျောက် ရသော အရာ တစုံ တခုမျှ သင်၌ ရှိသ
လော။ သူတပါးလက်မှခံယူသည်မှန်လျှင်၊ မခံ
မယူသကဲ့သို့အဘယ်ကြောင့်ဝါကြွားသနည်း။-
၈ ယခုတွင်သင်တို့သည်ကြွယ်ဝကြ၏။ ငွေရတတ်
ကြ၏။ ငါတို့မရှိစဉ်တွင် မိုးစံကြ၏။ ငါတို့သည်
သင်တို့နှင့် အတူ မိုးစံ ရသော အခွင့် ရှိမည် အ
ကြောင်း၊ သင်တို့ကိုအမှန် မိုးစံစေခြင်းငှါအလို
၉ ရှိ၏။- သတ်မည့်ရာ ထား သော သူ ကဲ့သို့ အခြား
သော သူ များ နောက် ၌ တ မန် တော် တည်း ဟူ
သောငါတို့ကိုဘုရားသခင်ထုတ်ပြတော်မူသည်
ဟု ငါ ထင်၏။ အ ကြောင်း မူကား၊ ငါ တို့ သည်
လောကီ သား များ နှင့် ကောင်းကင် တမန် များ
၁၀ မျက်မှောက်၌ ပွဲဝင်သော သူဖြစ်ကြ၏။- ငါတို့
သည် ခရစ်တော်၏ အကြောင်းကြောင့် လူမိုက်
ဖြစ်ကြ၏။ သင်တို့မူကား၊ ခရစ်တော်၌ ပညာရှိ
ဖြစ်ကြ၏၊ငါတို့သည်အားနည်းသောသူဖြစ်ကြ
၏၊သင်တို့မူကား၊ အစွမ်းသတ္တိနှင့်ပြည့်စုံသော
သူ၊ အသရေရှိသောသူဖြစ်ကြ၏။ ငါတို့သည်အ
၁၁ ရှက်အကြောက် ခံရသော သူဖြစ်၍၊- ယခုတိုင်
အောင်အစာအသောက်ငတ်မွတ်ခြင်း၊ အဝတ်
နွမ်းပါးခြင်း၊ရိုက်ပုတ်ညှဉ်းဆဲခြင်းကိုခံရကြ
၁၂ ၏။ နေရာမကျသောသူ၊- ကိုယ်လက်နှင့်ပင်ပန်း
စွာလုပ်ဆောင်ရသောသူဖြစ်ကြ၏၊ကဲ့ရဲ့ခြင်းကို
ခံရသောအခါ မေတ္တာပို့ကြ၏။ ညှဉ်းဆဲ နှိပ်
၁၃ စက်ခြင်းကိုခံရသောအခါသည်းခံကြ၏။-အသ
ရေရှုတ်ချခြင်းကိုခံရသောအခါတောင်းပန်ကြ
၏။ ဤလောက၏ အညစ်အကြေး ကဲ့သို့၎င်း၊ အ
ရပ်ရပ် ထဲက လှည်းဖြစ်သော တန်မြတ်ချေး အ
မှိုက်ကဲ့သို့၎င်းယခုတိုင်အောင်ဖြစ်ကြ၏။
၁၄ သင်တို့သည်ရှက်စေခြင်းငှါဤသို့ငါရေးသည်
မဟုတ်၊ သင်တို့ကို ချစ်သားကဲ့သို့မှတ်၍ သတိ
၁၅ ပေး၏။- သင်တို့တွင်ခရစ်တော်၏အကြောင်းကို
သင် ပေး သော ဆ ရာ တ သောင်း ရှိငြား သော်
ထည်း၊ အဖ အများမရှိ။ ဧဝံဂေလိ တရား အား
ဖြင့် ငါသည်သင်တို့ကို ယေရှုခရစ်၌ ဖြစ်ပွားစေ

၁၆ ပြီ။-ထိုဖြစ်၍၊ငါကျင့်သည်နည်းတူသင်တို့သည်
ကျင့်ကြမည်အကြောင်း၊ငါနှိုးဆော်တောင်းပန်
၁၇ ၏။- ထိုအကြောင်းကြောင့် သခင်ဘုရား၌သစ္စာ
ရှိသောငါ၏ ချစ်သား တိမောသေကို သင်တို့ဆီ
သို့ ငါစေလွှတ်၏။ ခပ်သိမ်းသောအရပ်တို့၌ ခပ်
သိမ်းသောအသင်းတော်တို့ကိုငါသွန်သင်သည်
နှင့်အညီ၊ ငါသည် ခရစ်တော်၌ ကျင့် သော အ
ကျင့်ဓလေ့များကိုသင်တို့သည်မှတ်မိစေခြင်းငှါ
၁၈ သူသည် ပြသ တိုက်တွန်း လိမ့်မည်။- ငါသည်
သင်တို့ဆီသို့ကိုယ်တိုင်မလာဟု၊ အချို့သောသူ
တို့သည် ထင်မှတ်သည်နှင့်၊ မာန ထောင် လွှား
၁၉ ခြင်းရှိကြ၏။-သို့သော်လည်း၊ သခင်ဘုရားသည်
အလိုတော်ရှိလျှင်ငါသည်မြန်မြန်လာမည်။လာ
သောအခါ မာနထောင်လွှားသောသူတို့၏စကား
ကို သိမှတ်မည် မဟုတ်။ သူတို့၏ တန်ခိုး ကို သိ
၂၀ မှတ်မည်။-အကြောင်းမူကား၊ဘုရားသခင်၏နိုင်
ငံတော်သည်စကား၌ တည်သည်မဟုတ်၊ တန်
၂၁ ခိုး၌တည်၏။- သင်တို့သည် အဘယ်သို့အလိုရှိ
သနည်း။ ငါသည်နှင်တံနှင့်သင်တို့ဆီသို့ လာရ
မည်လော။သို့မဟုတ်၊မေတ္တာနှင့်၎င်း၊နူးညံ့သိမ်
မွေ့သောစိတ်နှင့်၎င်းလာရမည်လော။

၅

၁ မတရားသောမေထုန်သာမညမဟုတ်၊အဖ၏မ
ယားကိုသိမ်းယူခြင်းတည်းဟူသော၊သာသနာ
ပလူတို့တွင်ပင်မကြားရသော မေထုန်၌မှီဝဲသော
သူသည် သင်တို့တွင်ရှိကြောင်းကို အနှံ့အပြား
၂ ကျော်စောကြ၏။-ထိုသို့ပြုသောသူကိုသင်တို့အ
ထဲမှနှင်ထုတ်မည်အကြောင်း၊စိတ်မသာ၊ညည်း
တွားခြင်းကိုမပြု၊ မာနထောင်လွှားလျက် နေကြ
၃ ၏။- ထိုကြောင့်၊ ငါသည် ကိုယ်ခန္ဓာအားဖြင့်
သင်တို့နှင့်ကွာလျက်ရှိသော်လည်း၊ ဝိညာဉ်အား
ဖြင့်မကွာ၊ကိုယ်တိုင်သင်တို့နှင့် အတူရှိသကဲ့သို့
၄ ထိုသို့ကျင့်သောသူကို ယခုပင်ငါစီရင်ပြီ။- စီရင်
ချက် ဟူမူကား၊ ငါတို့ သခင် ယေရှု ခရစ် ၏ အ
ခွင့် အားဖြင့် သင်တို့သည် ငါ ဝိညာဉ် နှင့် အတူ
စည်းဝေးပြီးမှ၊ငါတို့သခင်ယေရှုခရစ်၏တန်ခိုး
၅ တော်ကိုအမှီပြု၍၊- ထိုသူ၏ဝိညာဉ်သည်ယေရှု
ခရစ်၏ နေ့ရက်၌ ကယ်တင်ခြင်းသို့ ရောက်မည်
အကြောင်း၊ သူ၏ကိုယ်ခန္ဓာပျက်စီးဖို့ရာ သူကို
စာတန် လက်သို့ အပ်နှံ ကြစေဟု ငါ စီရင်၏။-
၆ သင်တို့၏ဝါကြွားခြင်းသည်မကောင်းမသင့်ဖြစ်
၏။အနည်းငယ်သောတဆေးသည်မုန့်စိမ်းတပုံ
လုံးကို ဖောင်း ကြွစေ တတ်သည်ကို မသိကြသ
၇ လော။- သင်တို့သည် တဆေးမဲ့ဖြစ်သည်နှင့် အ
ညီ၊ အသစ်သောမုန့်စိမ်းဖြစ်မည် အကြောင်း၊
ဟောင်းသောတဆေးကို သုတ်သင်ပယ်ရှင်းကြ
လော့။ အကြောင်းမူကား၊ ခရစ်တော်တည်းဟူ
သော ငါတို့ပသခါ သိုးသငယ်သည် ငါတို့ အဖို့
၈ ယဇ် ပူဇော် ရာ ဖြစ်၏။- ထို ကြောင့်၊ ဟောင်း
သောတဆေး၊ ဆိုးညစ်မိုက်မဲခြင်းတဆေးတို့ကို
ပယ်ပြစ်၍၊ တဆေးမဲ့ မုန့်တည်းဟူသော ကြည်
ဖြူခြင်း၊သစ္စာစောင့်ခြင်းနှင့် ပွဲခံကြကုန်အံ့။
၉ သင်တို့သည် မတရားသောမေထုန်၌ မှီဝဲသော
သူတို့နှင့် မပေါင်းဖော်မည်အကြောင်း၊ အထက်
၁၀ ဩဝါဒစာ၌ငါရေးထားခဲ့ပြီ။- ထိုသို့ ရေးထား
သော်၊ မတရားသောမေထုန်၌မှီဝဲခြင်း၊ လောဘ
လွန်ကျူးခြင်း၊အနိုင်အထက်လုယူခြင်း၊ရုပ်တု
ကို ကိုးကွယ်ခြင်းအမှုကို ပြုသောလောကီသား
တို့နှင့်အလျှင်းမပေါင်းဖော်ရဟု မဆိုလို။ ထိုသို့
ဆိုလျှင်၊ သင်တို့သည် လောကီမှ ထွက်သွားရ
၁၁ ကြမည်။- ယခုမူကား၊ ညီအစ်ကိုဟုခေါ်ဝေါ်
သော သူသည် မတရားသော မေထုန်၌ မှီဝဲ ခြင်း၊
လောဘလွန်ကျူးခြင်း၊ရုပ်တုကိုကိုးကွယ်ခြင်း၊
ဆဲရေးကဲ့ရဲ့ခြင်း၊ သေရည်သေရက် နှင့် ယစ်မူး
ခြင်း၊အနိုင်အထက်လုယူခြင်းမှစ၍၊ထိုသို့သော
အမှုကို ပြုသောသူနှင့်မပေါင်းဖော်ရသည်သာ
မက၊ထိုသူနှင့်အတူစားသောက်ခြင်းကိစ္စကိုမျှမ
၁၂ ပြုရဟု၊ငါရေးထား၍ပညတ်၏။- ပြင်လူတို့ကိုစီ
ရင်ခြင်းအမှုနှင့်ငါသည်အဘယ်သို့ဆိုင်သနည်း။
အတွင်း လူ တို့ ကို သင်တို့ စီရင် ရသည် မဟုတ်
၁၃ လော။- ပြင်လူတို့ကိုဘုရားသခင် စီရင်တော်မူ
လိမ့်မည်။ သို့ဖြစ်၍၊ထိုဆိုးညစ်သောသူကိုသင်
တို့အထဲမှနှင်ထုတ်ကြလော့။

၆

၁ သင်တို့သည်အချင်းချင်းအမှုရှိလျှင်၊ဘာနှင့်ရှင်း
သူတို့ရှေ့၌ တရားစီရင်ခြင်းကို မခံဘဲသာသနာ
ပလူတို့ရှေ့၌ ခံဝံ့သော သူတစုံ တယောက် ရှိသ
၂ လော။- သန့်ရှင်း သူတို့ သည် လောကီနိုင်ငံကို
တရား စီရင် မည်ဟု မသိ ကြ သလော။ သင် တို့
သည် လောကီ နိုင် ငံကို စီရင် ရသည် မှန် လျှင်၊
အ ငယ်ဆုံး သော အမှု များကို မစီရင် ထိုက်သ
၃ လော။- ငါတို့သည် ကောင်း ကင် တ မန် တို့ကို
တရားစီရင်မည်ဟု မသိကြသလော။ သို့ဖြစ်၍၊
လောကီအမှုကိုစီရင်ထိုက်သည်မဟုတ်လော။-

၄ ထိုကြောင့်၊ သင်တို့သည် လောကီအမှုကို စီရင်
စရာရှိလျှင်၊ အသင်းတော်၌ အသရေနည်းသောသူ
တို့ကို တရားသူကြီးအရာ၌ ခန့်ထားကြလော့။-
၅ ထိုသို့ဆိုသော်၊ သင်တို့ရှက်စေခြင်းငှါပြောဆို၏၊
သင်တို့တွင် ပညာရှိ တစုံ တယောက် မျှ မရှိ သ
လော၊ ညီအစ်ကိုချင်းတို့၏အမှုကိုစီရင်ဆုံးဖြတ်
၆ နိုင်သောသူတစုံတယောက်မျှမရှိသလော။-ညီ
အစ်ကိုချင်းတို့သည်တရားတွေ့ ကြသဖြင့်၊မ
ယုံကြည်သောသူတို့ရှေ့၌ပင် တရားတွေ့ပါသည်
၇ တကား။- ထိုသို့သင်တို့သည် အချင်းချင်းတရား
တွေ့သည်အမှုမှာ အသွန်ကြီးသွာသော အပြစ်ရှိ
ကြ၏၊တရားမတွေ့ဘဲ၊ညှဉ်းဆဲခြင်းကိုအဘယ်
၈ ကြောင့်မခံသနည်း။- ကိုယ်ဥစ္စာရှုံးခြင်းကို အ
ဘယ်ကြောင့်မခံသနည်း၊ထိုသို့သင်တို့သည်မခံ
ဘဲ၊ ညီအစ်ကို ချင်း တယောက် ကို တယောက်
ညှဉ်းဆဲ၍၊ ညီအစ်ကိုချင်းတို့၏ဥစ္စာကိုသိမ်းယူ
၉ ကြသည် တကား။- မ တရားသော သူတို့သည်
ဘုရားသခင်၏ နိုင်ငံ တော် ကို အမွေ မခံ ရသည်
ကိုသင်တို့မသိကြသလော၊ အထွဲမယူကြနှင့်၊ မ
တရားသောမေထုန်၌ မွေ့ပျော်သောသူ၊ ရုပ်တုကိုကိုး
ကွယ်သောသူ၊ သူ မယားကို ပြစ်မှားသောသူ၊
ယောက်ျားချင်းမေထုန်ကိုပြုသောသူ၊ ထိုအမှုကို
၁၀ ခံသောသူ၊- သူ့ဥစ္စာကိုခိုးသောသူ၊လောဘလွန်
ကျူးသောသူ၊သေရည်သေရက်နှင့်ယစ်မူးသော
သူ၊ ဆဲရေးကဲ့ရဲ့သောသူ၊ အနိုင်အထက်လုယူ
သောသူတို့သည် ဘုရားသခင်၏နိုင်ငံတော်ကိုအ
၁၁ မွေမခံရကြ။-အထက်ကသင်တို့တွင်အချို့သော
သူတို့သည် ထိုသို့သောသူဖြစ်ကြသော်လည်း၊
ထိုစုတွင် သခင်ယေရှု၏နာမတော်အားဖြင့်၎င်း၊
ငါတို့ဘုရားသခင်၏ဝိညာဉ်တော်အားဖြင့်၎င်း၊
ဆေးကြောသန့်ရှင်း၍ ဖြောင့်မတ်ရာသို့ ရောက်
ကြပြီ။
၁၂ ငါသည် အပြစ်မသင့်ဘဲလျှက် ခပ်သိမ်းသော
အမှုအရာကိုပြုနိုင်သည်မှန်စေတော့၊ ခပ်သိမ်း
သောအမှုအရာကိုပြုသင့်သည်မထုတ်၊ အပြစ်
မသင့်ဘဲလျှက် ခပ်သိမ်းသော အမှုအရာကို ပြု
နိုင်သည်မှန်စေတော့၊ အဘယ်အမှုအရာ၌မျှငါ
၁၃ သည်ကျွန်မခံ၊-အစာအာသောက်တို့သည်ဝမ်း
အဖို့၊ ဝမ်းသည်လည်း အစာအသောက်တို့အ
ဖို့ဖြစ်သည်မှန်စေတော့၊ သို့သော်လည်း၊ဘုရား
သခင်သည် ထိုနှစ်ပါးကို ဖျက်ဆီး တော် မူလိမ့်
မည်၊ ကိုယ်ခန္ဓာသည်မတရားသောမေထုန်အဖို့
ဖြစ်သည်မထုတ်၊ သခင်ဘုရားအဖို့ဖြစ်၏၊ သခင်
ဘုရားသည်လည်း ကိုယ်ခန္ဓာ အဖို့ ဖြစ်တော်မူ
၁၄ ၏။- ဘုရား သခင်သည် တန်ခိုး တော် အားဖြင့်
သခင်ဘုရားကို ထမြောက် စေတော်မူသည် ဖြစ်
၍၊ ငါတို့ကိုလည်း ထမြောက် စေ တော် မူလိမ့်
၁၅ မည်။- သင်တို့ ကိုယ်ခန္ဓာ သည် ခရစ်တော်၏
အင်္ဂါ ဖြစ်ကြောင်းကို မသိကြ သလော၊ ထိုဖြစ်
လျှင်၊ ခရစ်တော်၏အင်္ဂါကိုယူ၍ပြည်တန်ဆာ
၁၆ ၏အင်္ဂါဖြစ်စေအပ်သလော၊မဖြစ်စေအပ်။- အ
ဘယ်သို့နည်း၊ ပြည်တန်ဆာ၌မွေ့ပျော်သောသူသည်
ထိုပြည်တန်ဆာနှင့် တသားတကိုယ်တည်းဖြစ်
ကြောင်းကိုမသိကြသလော၊ ထိုသူနှစ်ယောက်
တို့သည်တသားတကိုယ်တည်းဖြစ်ရလိမ့်မည်
၁၇ ထုကျမ်းစာလာ၏။- သခင်ဘုရား၌မွေ့ပျော်သောသူ
သည် ထိုသခင်နှင့် တစိတ်တဝိညာဉ်တည်းဖြစ်
၁၈ ၏။- မတရားသော မေထုန်ကို ကြဉ်ရှောင် ကြ
လော့၊လူပြုတတ်သောအခြားရှိသမျှတို့
သည်ကိုယ်ပြင်၌ရှိ၏၊မတရားသောမေထုန်ကိုပြု
၁၉ သောသူမူကား၊ မိမိကိုယ်ကိုပင်ပြစ်မှား၏။- အ
ဘယ်သို့နည်း၊ သင်တို့ ကိုယ်ခန္ဓာ သည် ဘုရား
သ ခင် ပေး သ နား တော် မူ သော ဝိညာဉ် တော်
တည်းဟူသော၊သင်တို့အထဲ၌ ကျိန်းဝပ်၍ သန့်
ရှင်းသော ဝိညာဉ်တော်၏ ဗိမာန် ဖြစ်ကြောင်း
ကို၎င်း၊မိမိတို့ကိုမိမိတို့မပိုင်ကြောင်းကို၎င်းမသိ
၂၀ ကြသလော၊-သင်တို့သည်အဘိုးနှင့်ဝယ်တော်
မူသော သူ ဖြစ် သောကြောင့်၊ ဘုရား သခင် ပိုင်
တော်မူသော သင်တို့၏ကိုယ်ခန္ဓာနှင့်စိတ်ဝိညာဉ်
အားဖြင့် ဘုရားသခင်၏ ဂုဏ်တော်ကို ထင်ရှား
စေကြလော့။

၇

၁ သင်တို့သည် ငါ့ထံသို့ ပေးလိုက်သော စာ၌ ပါ
သောအရာမှာ၊ ယောက်ျားသည်မိန်းမနှင့်မဆက်
၂ ဆံ ထိ နေလျှင်၊- ကောင်းသော်လည်း၊ မတရား
သော မေထုန် နှင့် ကင်း လွတ် စေ ည် အကြောင်းမူ
ယောက်ျားတိုင်း၊ မိမိမယားရှိစေလော့၊မိန်းမတိုင်း
၃ မိမိလင်ရှိစေလော့။- ယောက်ျားသည် ဆက်ဆံ
ခြင်းဝတ်ကိုမိမိမယားအားပြုစေလော့၊ထိုနည်း
တူ၊မိန်းမသည်လည်း၊ဆက်ဆံခြင်းဝတ်ကိုမိမိလင်
၄ အားပြုစေလော့၊-မိန်းမသည်မိမိကိုယ်ကိုမပိုင်၊လင်
သည်ပိုင်၏၊ထိုနည်းတူ၊ယောက်ျားသည်လည်း၊
၅ မိမိကိုယ်ကိုမပိုင်၊မယားသည်ပိုင်၏။- အချင်း
ချင်းခင်ပွန်းဝတ်ကိုမပယ်မရှောင်ကြနှင့်၊ ထိုသို့

ဆိုသော်၊ ဆုတောင်းခြင်းဝတ်ကို ပြုရသော အ
ခွင့်ရှိစေခြင်းငှါ၊ အဘောတူ၍ ခင်ပွန်းဝတ်ကို
ခဏမျှ မရှောင်ရဲထုမဆိုထို။ ထိုသို့ရှောင်လျှင်၊
ကိုယ်ကိုမချုပ်တည်းနိုင်သောအားခြင့်စာတန်
သည်အပြစ်သို့ သွေးဆောင်ရသောအခွင့်မရှိစေ
၆ ခြင်းငှါ၊ နောက်တဖန်အတူနေကြလော့။- သို့ရာ
တွင်၊ ပညတ်မထားဘဲ အခွင့်ပေးခြင်းအားဖြင့်
၇ သာငါဆို၏။- လူအပေါင်းတို့သည်ငါကဲ့သို့ဖြစ်
စေခြင်းငှါငါအလိုရှိ၏။သို့သော်လည်း၊လူအသီး
အသီးတို့သည် ဘုရားသခင် ပေးသနား တော်မူ
သည်အတိုင်း အသီးအသီးသောဆုကျေးဇူးကို
၈ ခံရကြ၏။-ထိုကြောင့်၊မယားမရှိသောသူတို့နှင့်
မုဆိုးမတို့ကိုငါဆိုသည်ကား၊ထိုသူတို့သည်ငါ
၉ ကဲ့သို့နေလျှင်ကောင်း၏။- သို့သော်လည်း၊ကာမ
ဂုဏ်ကိုမချုပ်တည်းနိုင်လျှင်၊ ထိမ်းမြားစုံဖက်
ခြင်းကို ပြုကြစေ။ ကိလေသာမီးတောက်လောင်ခြင်းရှိ
သည်ထက်ထိမ်းမြားစုံဖက်ခြင်းပြုသော်သာ၍
ကောင်း၏။

၁၀ ခင်ပွန်းရှိသောသူတို့ကိုလည်း၊ငါပညတ်သည်
သာမက၊သခင်ဘုရားပညတ်တော်မူသည်ကား၊
၁၁ မယားသည်မိမိခင်ပွန်းကိုမစွန့်ပြစ်စေနှင့်။-စွန့်
ပြစ်လျှင်၊ ခင်ပွန်းမရှိဘဲနေစေ။ သို့မဟုတ်လျှင်၊
ခင်ပွန်းတောင်းထံသို့ ပြန်၍ အသင့်အတင့် နေ
စေ။ယောကျ်ားသည်လည်း၊ မိမိမယားနှင့်မကွာ
၁၂ စေနှင့်။- ကြွင်းသောသူတို့ကိုသခင်ဘုရားသည်
ကိုယ်တိုင်မပညတ်ဘဲ၊ ငါပညတ်သည်ကား၊တ
စုံတယောက်သော ညီအစ်ကိုသည် မယုံကြည်
သောမယားရှိ၍၊ထိုမယားသည်မိမိခင်ပွန်းနှင့်
၁၃ နေခြင်းငှါအလိုရှိလျှင် မကွာစေနှင့်။- ထိုနည်း
တူ၊ မိန်းမသည်လည်း၊ မယုံကြည်သော ခင်ပွန်းရှိ
၍၊ ထိုခင်ပွန်းသည် မိမိမယားနှင့်နေခြင်းငှါ အ
၁၄ လိုရှိလျှင်မကွာစေနှင့်။-အကြောင်းမူကား၊ မယုံ
ကြည်သောလင်သည် မိမိမယားအမှီ စင်ကြယ်
၏။ မယုံကြည်သောမယားသည်လည်း၊မိမိလင်
အမှီစင်ကြယ်၏။သို့မဟုတ်လျှင်၊သင်တို့၏သား
သမီးသည်မစင်ကြယ်၊ယခုတွင်စင်ကြယ်ကြ၏။-
၁၅ သို့ သော်လည်း၊ မယုံ ကြည် သော သူသည် ကွာ
သွားလိုလျှင်ကွာသွားစေ။ထိုသို့ပြုလျှင်၊တပည့်
တော်သည်ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ၊ ကျွန်
နှောင်ခြင်းမရှိ။ ငါတို့သည်အသင့်အတင့်နေစေ
၁၆ ခြင်းငှါဘုရားသခင်၏ပညတ်တော်ရှိ၏။- အချင်း
မိန်းမ၊ သင်သည်ကိုယ်ခင်ပွန်းကို ကယ်တင်မည်၊
မကယ်တင်မည်ကို အဘယ်သို့ သိသနည်း။ အ
ချင်း ယောကျ်ား၊ သင် သည် ကိုယ် ခင် ပွန်း ကို
ကယ်တင်မည်၊ မကယ်တင်မည် ကိုအဘယ်သို့
သိသနည်း။

၁၇ သခင်ဘုရားသည်လူအသီးအသီးတို့အားဝေ
ငှတော်မူ၍၊ ဘုရားသခင်သည် လူအသီးအသီး
တို့ကို ခေါ်တော် မူသည် နှင့် လျော်စွာ လူတိုင်း
ကျင့်နေစေ။ ခပ်သိမ်းသော အသင်းတော်တို့ကို
၁၈ ထိုသို့ငါပညတ်၏။-အရေဖျားလှီးခြင်းကိုခံသော
သူသည် ခေါ်တော်မူခြင်း ကျေးဇူးကို ခံရလျှင်၊
အရေဖျားလှီးခြင်းကို မစွန့် စေနှင့်။ အရေဖျား
လှီးခြင်းကိုမခံသောသူသည်လည်းခေါ်တော်မူ
ခြင်း ကျေးဇူးကို ခံရလျှင်၊ အရေဖျား လှီးခြင်း
၁၉ ကိုမခံစေနှင့်။- အရေဖျားလှီးခြင်းအားဖြင့် အ
ကျိုးမရှိ၊မခံဘဲနေခြင်းအားဖြင့်လည်းအကျိုးမ
ရှိ။ ဘုရားသခင်၏ ပညတ် တော် တို့ ကို စောင့်
၂၀ ရှောက်ခြင်းအားဖြင့်သာအကျိုးရှိ၏။-ခေါ်တော်
မူခြင်းကျေးဇူးကို ခံရသောသူသည် အကြင်အ
၂၁ မှုကိုလုပ်နေ၏၊ထိုသို့လူတိုင်းလုပ်နေစေ။- အစေ
ခံကျွန်ဖြစ်၍ ခေါ်တော်မူခြင်း ကျေးဇူးကို ခံရ
လျှင်မိုးရိမ်ခြင်းမရှိနှင့်။ သို့သော်လည်း လွတ်
ခြင်းသို့ ရောက်နိုင်လျှင် လွတ်ရသောအခွင့်ကို
၂၂ သာ၍ သုံး ဆောင် လော့။- အ ကြောင်း မူကား
ကျွန်ဖြစ်စဉ်၊ သခင်ဘုရားခေါ်တော်မူခြင်းကိုခံ
ရသော သူသည် သခင်ဘုရား၏လူလွတ် ဖြစ်၏။
ထိုနည်းတူ၊ လူလွတ်ဖြစ်စဉ်၊ ခေါ်တော်မူခြင်း
ကို ခံရသောသူသည် ခရစ်တော်၏ကျွန်ဖြစ်၏။-
၂၃ သင်တို့သည်အဘိုးနှင့် ဝယ်တော်မူသောသူဖြစ်
၂၄ ၍၊လူထံ၌အလိုအလျောက်ကျွန်မခံကြနှင့်။-ညီ
အစ်ကိုတို့၊ခေါ်တော်မူခြင်းကျေးဇူးကိုခံရသော
သူသည် အကြင်အမှုကို လုပ်နေ၏၊ ထိုသို့ဘုရား
သခင်ရှေ့တော်၌လူတိုင်းလုပ်နေစေ။

၂၅ ခင်ပွန်းမရှိသောသူတို့၏အမှုမှာ၊သခင်ဘုရား
၏ ပညတ်တော်သည် ငါ၌ မရှိသော်လည်း၊ ငါ
သည် သစ္စာ ရှိသောသူဖြစ်စေ့ သော ငှါ၊ သခင်
ဘုရား၏ကျေးဇူးတော်ကို ခံရသော သူ ကဲ့သို့ မိ
၂၆ ရင်၏။- မိရင်ချက်ဟူမူကား၊ယခုညှဉ်းဆဲခြင်း
အကြောင်းကြောင့်ခင်ပွန်းမရှိလျှင်ကောင်း၏။-
၂၇ သင်သည် မယား ရှိလျှင် လွတ်စေခြင်းငှါ မကြံ
စည်နှင့်။ မယားနှင့် လွတ်လျှင် အခြားသောမ
၂၈ ယားကိုမရှာနှင့်။- သို့သော်လည်း၊သင်သည်မ
ယားနေလျှင် အပြစ်မရှိ။ ထင်မနေဖူးသော မိန်း

ထည့်ထည့်၊ ထင်နေလျှင် အပြစ်မရှိ။ ထို့ သော်
ထည်း၊ထိုသို့ပြုသောသူဖို့သည်သောက်ဘူည်း၊
ဆဲခြင်းရ ထွက် ခံရကြမည်။ ဤအမှုအရာ၌ကြွပ်
၂၉ ထည်း၊ရွာသောပညတ်ကိုငါမထား။ထို။-ညီအစ်
ကိုတို့၊ငါဆိုသည်ကား၊ ကျန်ကြွင်းသောကာလ
သည် တွည်းကျဉ်သည်ဖြစ်၍၊ မယား၊ ရှိသော
၃၀ သူသည်မယားမရှိသကဲ့သို့ဖြစ်ရမည်။- ငိုကြွေး
သောသူသည်မငိုကြွေးသကဲ့သို့ ဖြစ်ရမည်။ဝမ်း
မြောက် သော သူသည် ဝမ်း၊ မမြောက် သကဲ့သို့
ဖြစ်ရမည်။ ဥစ္စာဝယ်သောသူသည်အလျှင်းမရှိ
၃၁ သကဲ့သို့ဖြစ်ရမည်။- ဤလောကကို သုံးသောသူ
သည် မသုံး၊ သကဲ့ သို့ ဖြစ်ရ မည်။ အကြောင်းမူ
ကား၊ ဤလောက၏အဆင်းသဏ္ဌာန်သည် ရွေ့
၃၂ သွားကွယ်ပျောက်တတ်၏။-သင်တို့သည်မိုးမိုင်
ခြင်းနှင့် ကင်းလွတ်စေခြင်း၌ ငါအလိုရှိ၏။ ခင်
ပွန်းမရှိသောသူသည် သခင်ဘုရား၏စိတ်တော်
နှင့်တွေ့စေခြင်း၌ သခင်ဘုရား၏အမှုကိုသာ သ
၃၃ တိထားတတ်၏။- ခင်ပွန်းရှိသော သူမူကား၊မိမိ
မယား၏ စိတ်နှင့်တွေ့စေခြင်း၌ လောကီအမှုကို
၃၄ သတိ ထား တတ် ၏။- ထိုနည်းတူ၊ ခင်ပွန်း မရှိ
သောမိန်းမနှင့်ခင်ပွန်းရှိသောမိန်းမသည်ခြားနားခြင်း
ရှိ၏။ ခင်ပွန်းမရှိသော မိန်းမသည် ကိုယ်ခန္ဓာစိတ်
ဝိညာဉ်နှစ်ပါးကိုသန့်ရှင်းစေခြင်း၌သခင်ဘုရား
၏အမှုကိုသာသတိထားတတ်၏။ခင်ပွန်းရှိသော
မိန်းမမူကား၊ မိမိခင်ပွန်း၏စိတ်နှင့် တွေ့စေခြင်း၌
၃၅ လောကီအမှုကိုသတိထားတတ်၏။- ထိုသို့ငါဆို
သော်၊ သင်တို့အကျိုးကိုသာ ထောက်၍ ဆို၏။
သင်တို့ကို နှောင့် ရှုတ်ချင်သောစိတ်နှင့်ဆိုသည်
မဟုတ်။ သင်တို့သည် လျောက်ပတ်စွာ ကျင့်၍
စိတ်ရှုပ်ထွေးခြင်းမရှိဘဲ၊ သခင်ဘုရား၏ဝတ်ကို
အမြဲပြုစေခြင်း၌သာဤသို့ဆို၏။
၃၆ အပျိုကညာ သည့် ခင်ပွန်းမရှိဘဲ အသက်အ
ရွယ် လွန်လျှင် မလျောက် ပတ်ဟု၊ ထို အပျိုက
ညာကို ပိုင်သောသူသည် ထင်မှတ်၍ ထိမ်းမြား
စရာအကြောင်းလည်းရှိလျှင်၊ ထိုသူသည်အလို
အလျောက်ပြုစေ။အပြစ်မရှိ၊ထိမ်းမြားကြစေ။-
၃၇ သို့သော်လည်း၊ မိမိစိတ်နှစ်လုံးတည်ကြည်ခြင်း
ရှိ၍၊ ပြုလိုသည်အတိုင်း ပြုနိုင်သောအခွင့်နှင့်
ကိုယ်စိတ်အလိုကို ချုပ်တည်းနိုင်သော အခွင့်
ရှိသောကြောင့်၊မထိမ်းမြားဘဲနေမည်ဟု ၊ကိုယ်
စိတ်နှစ်လုံး ထဲမှာ စီရင်ဆုံးဖြတ်သော သူသည်
၃၈ ကောင်း၊ စွာပြု၏။- ထို့ကြောင့်၊ မင်္ဂလာ ဆောင်

သောသူသည် ကောင်းစွာ ပြု၏။ မဆောင်သော
သူမူကား၊သာ၍ကောင်းစွာပြု၏။
၃၉ မိန်းမသည် မိမိခင်ပွန်း၊ မသေမီ ကာလ ပတ်လုံး
တရားအားဖြင့်ချုပ်နှောင်လျက်ရှိ၏။ ခင်ပွန်းသေ
လျှင်မူကား၊မိမိအလိုအတိုင်းသခင်ဘုရား၌ထား၊
အခြားသောသူ၏မယား ဖြစ်ခြင်း၌ငါအခွင့်ရှိ၏။-
၄၀ အခွင့်ရှိသော်လည်း၊ အခြားသောသူ၏ မယား
မဖြစ်ဘဲနေလျှင်၊ သာ၍မင်္ဂလာရှိသည်ဟု ငါထ
သောရှိ၏။ ငါ၌လည်းဘုရားသခင်၏ဝိညာဉ်တော်
ရှိတော်မူသည်ဟုငါထင်မြင်းမိတ်ရှိ၏။

၈

၁ ရုပ်တုရှေ့၌ပူဇော်သောသက်ကောင်အရာများ
ငါတို့ရှိသမျှသည်ပိုင်းခြားထတ်သောဉာဏ်ရှိ
သည်ကိုငါတို့သိကြ၏။ဉာဏ်သည်ဝါကြွားခြင်း
စေတတ်၏၊ မေတ္တာ မူကား၊ တည်ဆောက်တတ်
၂ ၏။- အကြင်သူသည်၊ငါကားပညာရှိဖြစ်သည့်
ဟု၍ မိတ်ထင်၏၊ ထိုသူသည် သိအပ်သည့် အ
၃ တိုင်း အလျှင်း မသိသေး။- ဘုရားသခင်ကို ချစ်
သောသူမည်သည်ကား၊ ဘုရားသခင်သိတော်
၄ မူသောသူဖြစ်၏။- ရုပ်တုရှေ့၌ပူဇော်သောသက်
ကောင်ကိုစားခြင်းအရာမှာ၊ ရုပ်တုသည်ဤလော
ကနှင့်အချည်းနှီးသက်သက်ဖြစ်သည်ကိုငှ၎င်း၊ တ
ဆူတည်း သော ဘုရား သခင် မှ တပါး၊ အထက်
ဘုရားသခင်မှ မရှိသည်ကို၎င်း ငါတို့သိကြ၏။-
၅ ဘုရား များ၊ အ ရှင် များ ဟု ဆို သည့် အ တိုင်း
ကောင်း၊ ကင်ပေါ် မြေကြီး ပေါ်မှာ ဘုရားဟူ၍
ခေါ်ဝေါ်သမုတ်သောသူအများရှိသော်လည်း-
၆ အကြင် ဘုရားသခင်အထဲက ခပ်သိမ်းသောအ
ရာဖြစ်၍၊အကြင်ဘုရားသခင်အဖို့အလို့ငှါငါတို့
သည် ဖြစ်ကြ၏၊ ထို ခမည်း တော် ဘုရားသခင်
တပါး၊ တည်းသာ ငါတို့၌ ရှိတော်မူ၏။ အကြင်
သခင်အားဖြင့်ငါတို့မှစ၍ ခပ်သိမ်းသောအရာ
ဖြစ်ကြ၏၊ ထိုသခင်ယေရှုခရစ်တပါးတည်းသာ
၇ ငါတို့၌ရှိတော်မူ၏။- သို့သော်လည်း၊ထိုဉာဏ်
ကိုလူတိုင်းမရ။ အချို့သောသူတို့သည်ယခုတိုင်
အောင် ရုပ်တုရှေ့၌ ပူဇော်သော သက်ကောင်ကို
စားသော်၊ ရုပ်တုကို ထောက်သောစိတ်နှင့် စား
ကြသည်ဖြစ်၍၊ သူတို့၌ကိုယ်ကို ကိုယ်သိသော
စိတ်သည်အားနည်းသောကြောင့် ညစ်ညူးခြင်း
သို့ရောက်တတ်၏။
၈ အစာအာဟာရအားဖြင့်ဘုရားသခင်ရှေ့မှာ
ရှုတ်နှာရသည်မဟုတ်၊ အစာကိုသုံးကာမျှဖြင့်

ဖြတ်သည်မဟုတ်၊ ရှောင်ကာမျှဖြင့်ယုတ်သည်
၉ မဟုတ်။- သို့သော်လည်း၊ သင်တို့အခွင့်ကိုအား
နည်းသော သူတို့၌ ထိမိ၍လဲစရာ အကြောင်းမ
၁၀ ဖြစ်စေခြင်းငှါသတိပြုကြလော့။- အကြောင်းမူ
ကား၊ သင်သည် ပိုင်းခြားတတ်သော ဉာဏ်ရှိ
လျက်ပင်၊ ရုပ်တုစင်ထဲ၌ စားပွဲနားမှာ လျောင်း
သည်ကို သူတပါးမြင်လျှင်၊ ကိုယ်ကို ကိုယ်သိ
သော စိတ်အားနည်းသောသူသည်၊ ရုပ်တုရှေ့၌
ပူဇော်သောယဇ်ကောင်ကို စားခြင်းငှါ ရဲမည်မ
၁၁ ဟုတ်လော။- ထိုသို့ဖြစ်လျှင်၊အကြင်ညီအစ်ကို
အဖို့ အလိုငှါ ခရစ်တော်သည် အသေခံတော်မူ
၏၊ အားနည်းသော ထိုညီအစ်ကိုသည် သင်၏
ဉာဏ်ကြောင့်ပျက်စီးခြင်းသို့ရောက်ရပါသည်
တကား။- သင်တို့သည် ညီအစ်ကိုတို့ကို ထိုသို့
ပြစ်မှား၍သူတို့၌ ကိုယ်ကို ကိုယ်သိသော၊အား
နည်းသောစိတ်ကိုထိခိုက်သောအခါ၊ ခရစ်တော်
၁၃ ကိုလည်းပြစ်မှားရာသို့ရောက်၏။- သို့ဖြစ်၍၊ငါ
၏အစာ၊ အသောက်သည် ငညီအစ်ကိုကို မှား
ယွင်းစေလျှင်၊ ငညီအစ်ကို၌ မှားယွင်းစရာ အ
ကြောင်း မရှိစေခြင်းငှါ၊ အစဲသားကို အစဉ်မ
ပြတ်ရှောင်မည်။

၉

၁ ငါပေါလုသည်ကျွန်မဟုတ်၊ လူလွတ်ဖြစ်သည်
မဟုတ်လော၊ တမန်တော်ဖြစ်သည် မဟုတ်
လော၊ ငါတို့သခင်ယေရှုခရစ်ကိုမြင်ရပြီမဟုတ်
လော၊ သင်တို့သည်သခင်ဘုရား၌ငါလုပ်သော
၂ အလုပ်ဖြစ်ကြသည် မဟုတ်လော။- ငါသည်အ
ခြားသော သူတို့ အား တမန်တော် မဖြစ် သော်
လည်း၊ သင်တို့အားတမန်တော်အမှန်ဖြစ်၏၊အ
ကြောင်းမူကား၊ ငါသည်တမန်တော် မှန်သည်
ဟု၊ သင်တို့သည် တပည့်တော်ဖြစ် သော အား
၃ ဖြင့်ငါကိုတံဆိပ်ခတ်ကြ၏။- ငါကိုစစ်ဆေးမေး
မြန်းသောသူတို့အားငါအပြစ်ဖြေရာစကားဟူမူ
၄ ကား။- ငါတို့သည်စားသောက်ခြင်းအခွင့်မရှိသ
၅ လော။- ကေဖနှင့် သခင်ဘုရား၏ ညီများ မှစ၍
ကြွင်းသော တမန်တော်များကဲ့သို့၊ ငါတို့သည်
ဧဝံဂေလိယုံကြည်သည့်တွင် နှမ်မဖြစ်သော
၆ မယားပါစေခြင်းငှါ အခွင့် မရှိသလော။- ငါနှင့်
ဗာနဗ သာအလုပ်မလုပ်ဘဲ နေရသောအခွင့်မရှိ
၇ ဟုဆိုရသလော။- အဘယ်သူသည်ကိုယ်စရိတ်
ကိုသုံး၍ စစ်မှုကို ထမ်းရသနည်း၊ အဘယ်သူ
သည်ဥယျာဉ်ကိုစိုက်ပျိုး၍အသီးကိုမစားဘဲနေ
ရသနည်း၊ အဘယ်သူသည်သိုးထိန်းလုပ်၍သိုး
နို့ကိုမသုံးဆောင်ဘဲနေရသနည်း။
၈ လောကီဝေါဟာရအားဖြင့်သာ ဤသို့ ငါဆို
သလော၊ပညတ်တရားသည်လည်းဤသို့ပင်ဆို
၉ သည်မဟုတ်လော။-မောရှေ၏ပညတ္တိကျမ်းစာ
၌ထားသည်ကား၊စပါးနင်းနယ်သောနွားအစ်နှုတ်
ကိုမချုပ်တည်းရဟု လာ၏၊ ဘုရားသခင်သည်
၁၀ နွားကိုသာ ပမာဏ ပြုတော်မူသလော။- သို့မ
ဟုတ်၊ ငါတို့ကြောင့်သာ ဤသို့ပညတ်တော်မူသ
လော၊ လယ်ထွန်သောသူသည်မျှော်လင့်လျက်
ထွန်စေခြင်းငှါ၎င်း၊မျှော်လင့်လျက်စပါးနင်းနယ်
သောသူသည်မျှော်လင့်သည်အတိုင်း ရစေခြင်း
ငှါ၎င်း၊ ငါတို့ကြောင့်သာဤသို့ကျမ်းစာသာ၏။-
၁၁ ငါတို့သည်သင်တို့၌ ဝိညာဉ်မျိုးစေ့ကိုစိုက်ပြီးမှသင်
တို့၏လောကီအသီးကို သုံးဆောင်လျှင်ကျေးဇူး
၁၂ ကြီးမည်လော။- အခြားသောသူတို့သည် သင်
တို့ထံမှာ၊ ထိုအခွင့်ကိုရလျှင်ငါတို့သည်သာ၍ရ
ထိုက်သည်မဟုတ်လော၊သို့သော်လည်း၊ ထိုအ
ခွင့်ကိုငါတို့သည်မသုံးဘဲ၊ ခရစ်တော်၏ဧဝံဂေလိ
တရားကို ဆီးတားခြင်း၊ အကြောင်း၊ မရှိစေခြင်း
၁၃ ငှါ အရာရာ၌ သည်းခံကြ၏။- စျေး ကိစ္စ အမှုကို
ဆောင်ရွက်သော သူတို့သည် ဗိမာန် တော်ကို
အမှီပြု၍စားရသည်ကို၎င်း၊ ယဇ်ပူဇော်ခြင်းအ
မှုကို ဆောင်ရွက် သော သူတို့သည် ယဇ်ပလ္လင်
နှင့်ဆက်ဆံ၍စားရသည်ကို၎င် သင်တို့မသိကြ
၁၄ သလော။-ထိုနည်းတူ၊ဧဝံဂေလိတရားကိုဟော
သောသူတို့သည်ဧဝံဂေလိတရားကိုအမှီပြု၍အ
သက်မွေး ရ ြည် အကြောင်း၊ သခင် ဘုရား၏
ပညတ်တော်မူချက်ရှိ၏။
၁၅ ထိုသော်လည်း၊ထိုအခွင့်ကိုငါသည်အလျှင်း
မသုံး၊သင်တို့သည်ငအား ထိုသို့ပြုစေခြင်းငှါ ဤ
စကားကို ငါ ရေး သည် မဟုတ်၊ အ ကြောင်းမူ
ကား၊ငါဝါကြွားခြင်းအခွင့်ကိုသူတပါးဖျက်ဆီး
၁၆ သည်ထက် ငါသေသော် သာ၍ကောင်း၏။- ငါ
သည်ဧဝံဂေလိတရားကိုဟောရုံပြုလျှင်ဝါကြွား
ခြင်း၊အကြောင်းမရှိသေး၊အဘယ်ကြောင့်နည်း
ဟူမူကား၊မဟောဘဲမနေနိုင်၊မဟောဘဲနေလျှင်
၁၇ အမင်္ဂလာရှိ၏၊-သို့ဖြစ်၍၊အမှုတော်ကိုအလိုအ
လျောက်ဆောင်ရွက်လျှင်အကျိုးရှိ၏၊ ကိုယ်အ
လိုကိုငြင်းဆန်၍ဆောင်ရွက်လျှင်၊အရာတော်၌
၁၈ ခန့်ထားသောသူဖြစ်၏။- သို့ဖြစ်၍၊ငါ၏အကျိုး
အဘယ်သို့နည်းဟူမူကား၊ ဧဝံဂေလိတရားကို

ဟောသောအခါ၊ ဟောခြင်းနှင့် ဆိုင်သော
အခွင့်ကိုမသုံးဘဲလျက်၊ ခရစ်တော်၏ ဧဝံဂေလိ
အရာကိုနာသောသူတို့သည် အထံစရိတ်ကိုမျှ
မကုန်ထဲနေစေခြင်းငှါ ပြုလျှင်ငါ၌အကျိုးရှိ၏။
၁၉ ငါသည်အထံယသူ၏ကျွန် မဖြစ်သော်သဉ်း၊
သာ၍ များသောသူတို့ကို ရခြင်း အလိုငှါ လူတ
၂၀ ကာထို့၏ကျွန်ခံရ၏။- ယုဒလူတို့ကို ရခြင်းအလို
ငှါ ယုဒလူတို့၌ယုဒလူကဲ့သို့ဖြစ်၏၊ပညတ်တရား
ကိုကိုယ်တိုင်မဆည်းကပ်သော်ထည်း၊ ပညတ်
တရားကို ဆည်းကပ်သောသူတို့ကို ရခြင်းအလို
ငှါ၊ ပညတ်တရားကို ဆည်းကပ် သော သူတို့၌
ပညတ် တရားကို ကျင့် သော သူကဲ့သို့ ဖြစ်၏။-
၂၁ ဘုရားသခင်ရှေ့တော်၌တရားမဲ့မနေ၊ ခရစ်တော်
၏တရားကိုကျင့်သောသူဖြစ်သော်ထဉ်း၊ပညတ်
တရားမဲ့သော လူတို့ကို ရခြင်းအလိုငှါ၊ ပညတ်
တရားမဲ့သောသူတို့၌ပညတ်တရားမဲ့သောသူကဲ့
၂၂ သို့ဖြစ်၏၊-အားနည်းသောသူတို့ကိုရခြင်းအလို
ငှါ အားနည်းသောသူတို့၌အားနည်းသောသူကဲ့
သို့ဖြစ်၏၊ အချို့သောသူတို့ကို တစုံတခုသောအ
မှုအရာ အားဖြင့် ကယ်တင် ခြင်းအလိုငှါ၊ ခပ်
သိမ်းသောသူတို့၌ ခပ်သိမ်းသောအရာ ဖြစ်၏။-
၂၃ သင် တို့နှင့်အတူ၊ ဧဝံဂေလိတရားကို ဆက်ဆံ
ခြင်းမှလိုငှါ၊ ဧဝံဂေလိတရားကြောင့် ထိုသို့ငါ
ပြုလေ့ရှိ၏။
၂၄ မြေတထင်း၌ပြိုင်၍ပြေးကြသောသူအပေါင်း
တို့သည်ပြိုင်၍ပြေးကြသော်ထည်း၊တယောက်
တည်းသာလျှင်ဆုကိုရသည်ကို သင်တို့မသိကြ
သလော၊ဆုကိုရမည်အကြောင်း ပြေးကြလော့။-
၂၅ ပွဲ၌ ပြိုင်၍ အချင်းချင်း တိုက်သော သူမည်သည်
ကား၊ အရာရ၌ တပ်မက်ခြင်းကို ချုပ် တည်း
တတ်၏၊ ထိုသူတို့သည် ညှိုးနွမ်း ပျက်စီးတတ်
သောပန်းဦးရစ်ကိုရခြင်းအလိုငှါပြုကြ၏၊ငါတို့
မူကား၊ မညှိုးနွမ်းမပျက်စီးနိုင်သောပန်းဦးရစ်
၂၆ ကိုရခြင်းအလိုငှါပြုကြ၏။- ထိုကြောင့်၊ ငါပြေး
သောအခါ အမှတ်တမဲ့ပြေးသည်မဟုတ်၊ ထက်
ဖွေသတ်သောအခါ လေကိုသာကောင်းကင်ကို
၂၇ သာထိုး၍ သတ်သည်မဟုတ်။- သူတပါးကိုဆုံးမ
ပြီးမှ ကိုယ်တိုင် ရှုံးသော သူ မ ဖြစ် ရ မည် အ
ကြောင်း၊ကိုယ်ကိုထိုး၍နှိပ်စက်လေ့ရှိ၏။

၁၀

၁ ညီအစ်ကိုတို့၊ငါတို့ဘိုးဘေးအပေါင်းတို့သည်
မိုးတိမ်အောက်မှာရှိ၍၊ ပင်လယ် အလယ်၌
၂ ရှောက်သွားကြသည်တွင်၍၄င်း၊- မိုဿေတိမ်နှင့်
ပင်လယ်ထဲမှာမောရှေ၌ ဗတ္တိဇံခြင်းကို ခံကြသည်
၃ တွင်၍၄င်း၊- ဝိညာဉ်စာကိုအတူစားကြသည်တွင်၍
၄င်း၊ ဝိညာဉ်ရေကိုအတူသောက်ကြသည်တွင်၍၄င်း၊
ထင်တို့မသိမမှတ်ဘဲနေစေခြင်းငှါငါအလိုမရှိ။-
၄ ထိုသူတို့နောက်၌လိုက်သောဝိညာဉ်ကျောက်မှထွက်
သော ရေကို သောက် ကြ၏၊ ထို ကျောက် ကား
၅ ခရစ်တော်ဖြစ်သတည်း။-သို့သော်ထည်း၊ထိုသူ
ထို့တွင်များစွာသောသူတို့ကိုဘုရားသခင်သည်
အားရ နှစ်ထက် တော်မမူ၊ သူတို့သည် တော၌
သေကြေပျက်စီးခြင်းသို့ရောက်ကြ၏။
၆ ထိုသူတို့သည်မကောင်းသောအရာတို့ကိုတပ်
မက်သကဲ့သို့ ငါတို့သည် မတပ်မက် စေခြင်းငှါ၊
ထိုအကြောင်းအရာတို့သည် ငါတို့အဖို့ ပုံသက်
၇ သေဖြစ်ကြ၏။- လူတို့သည် စားသောက်လျက်
ထိုင်နေကြ၏၊ နောက်တဖန်ကခုန်မြူးထူးခြင်းငှါ
ထကြ၏ဟု၊ကျမ်းစာထားသည်အတိုင်း၊- ထိုသူ
အချို့တို့သည် ရုပ်တုကိုကိုးကွယ်သကဲ့သို့မကိုး
ကွယ်ကြနှင့်၊ ထိုသူအချို့တို့သည်မတရားသော
မေထုန်အမှုကိုပြု၍၊တနေ့ချင်းတွင်လူနှစ်သောင်း
သုံးထောင် ထဲ၍ သေ သကဲ့သို့ မပြုဘဲ၊ မတရား
၈ သောမေထုန်ကို ရှောင်ကြကုန်ထို့၊- ထိုသူ အချို့
တို့သည် စုံစမ်းနှောင့်ရှက်ခြင်းကိုပြု၍၊ မြွေဖြင့်
ပျက်စီးသကဲ့သို့ငါတို့သည်မပြု၊ ခရစ်တော်ကိုမ
၁၀ စုံစမ်းမနှောင့်ရှက်ဘဲ နေကြကုန်အံ့၊- ထိုသူအ
ချို့တို့ သည် မြည် တမ်း ခြင်း ကို ပြု၍၊ ဖျက်ဆီး
သောသူ၏ ထက် ဖြင့် ပျက်စီး သ ကဲ့ သို့ မဟုတ်၊
၁၁ မြည်တမ်းခြင်းကို မပြုကြနှင့်၊- ထိုအကြောင်း
အရာရှိသမျှတို့သည် ပုံသက်သေဖြစ်အံ့သောငှါ၊
ထိုသူတို့၌ ရောက်ကြ၏၊ ကပ်ကာလ အဆုံးတွင်
ဖြစ်သော ငါတို့ကို ဆုံးမ ရာ အလို့ ကျမ်းစာ၌ ရေး
၁၂ ထားလျက်ရှိသတည်း။- ထိုကြောင့်၊အကြင်သူ
သည် မိမိတည်ကြည်လျက်နေသည်ဟု မိမိထင်
၁၃ မှတ်၏၊ ထိုသူသည်မလဲခြင်းငှါသတိပြုစေ၊- လူ
၌ ဖြစ်တတ်သော စုံစမ်း နှောင့်ရှက်ခြင်းကိုသာ
သင်တို့သည်ခံရကြ၏၊ ဘုရားသခင်သည်သစ္စာ
နှင့် ပြည့်စုံတော် မူသည် ဖြစ်၍၊ သင်တို့ မခံနိုင်
သောစုံစမ်းနှောင့်ရှက်ခြင်းကို သင်တို့၌ ရောက်
မိမှသောငှါအခွင့်ပေးတော်မမူ၊ သင်တို့သည်ခံ
နိုင်မည်အကြောင်းစုံစမ်းနှောင့်ရှက်ခြင်းအရာ
နှင့်အတူ၊ ထွက်မြောက်သော လမ်းကိုလည်း စီ
ရင်ပြုဖွင့်တော်မူလိမ့်မည်။

၁၄ ထိုကြောင့်ချစ်သူတို့၊ရုပ်တုကိုကိုးကွယ်ခြင်း
၁၅ အမှုကိုကြည်ရှောင်ကြလော့၊- သင်တို့ကိုဉာဏ
ရှိတဲ့သို့မှတ်၍ပြောမည်၊ ငါ့စကားကိုဆင်ခြင်ကြ
၁၆ လော့၊- ငါတို့သည်ကျေးဇူးတော်ကို ချီးမွမ်းရာ
မင်္ဂလာခွက်ဖလားမူကား၊ ခရစ်တော်၏အသွေး
ကို ဆက်ဆံခြင်းဖြစ်သည်မဟုတ်လော၊ ငါတို့ဖဲ့
သော မုန့်မူကား၊ ခရစ်တော်၏ ကိုယ်ကိုဆက်
၁၇ ဆံခြင်းဖြစ်သည်မဟုတ်လော၊-မုန့်တလုံးတည်း
ရှိသည်ဖြစ်၍၊ ငါတို့ရှိသမျှသည် တလုံးတည်း
ဖြစ်သောထိုမုန့်ကိုဆက်ဆံလျက် ခံယူကြသော
ကြောင့်၊ အများဖြစ်သောငါတို့သည် တလုံးတ
၁၈ ကိုယ်တည်း ဖြစ်ကြ၏၊- ဇာတိအားဖြင့်ဣသရေ
လအမျိုး ဖြစ်သော သူတို့ကို ကြည့်ရှုကြလော့၊
ယဇ်ကောင်ကို စားသောသူတို့သည်ယဇ်ပလ္လင်
နှင့် ဆက်ဆံသောသူဖြစ်ကြသည်မဟုတ်လော၊-
၁၉ ထိုသို့ဆိုသော်အဘယ်သို့ငါဆိုလိုသနည်း၊ ရုပ်
တုကားမှတ်စရာရှိသည်၊ရုပ်တုရှေ့၌ပူဇော်သော
ယဇ်ကောင်ကား မှတ်စရာ ရှိသည်ဟု ဆိုလိုသ
၂၀ လော၊- ထိုသို့မဆိုလို၊သာသနာပလူတို့သည်ပူ
ဇော်သောယဇ်ကို ဘုရားသခင်အားပူဇော်ကြ
သည်မဟုတ်၊နတ်ဆိုးတို့အားပူဇော်ကြ၏၊သင်
တို့သည်နတ်ဆိုးတို့နှင့်ဆက်ဆံစေခြင်းငှါ ငါအ
၂၁ လိုမရှိ၊- သခင်ဘုရား၏ခွက်ဖလား၊ နတ်ဆိုးတို့
၏ခွက်ဖလားနှစ်ပါးကိုသင်တို့မသောက်နိုင်ကြ၊
သခင်ဘုရား၏စားပွဲ၊ နတ်ဆိုးတို့၏ စားပွဲနှစ်ပါး
၂၂ ကိုသင်တို့ဝင်၍မစားနိုင်ကြ၊- သခင်ဘုရား၏အ
မျက်တော် ထွက်စေခြင်းငှါ ငါ တို့ ပြုရကြသ
လော၊ ငါတို့သည်သခင်ဘုရားထက်သာ၍တန်
ခိုးကြီးကြသလော၊
၂၃ ငါသည် အပြစ်မသင့်ဘဲခပ်သိမ်းသော အမှု
အရာကိုပြုနိုင်သည်မှန်စေတော့၊ ခပ်သိမ်းသော
အမှုအရာကိုပြုသင့်သည်မဟုတ်၊ အပြစ်မသင့်
ဘဲ ခပ်သိမ်းသော အမှု အရာကို ပြုနိုင်သည် မှန်
စေတော့၊ ခပ်သိမ်းသောအမှုအရာတို့သည် သူ
တပါးကို အညီအဆောက် တတ် သည် မဟုတ်၊-
၂၄ ကိုယ်အကျိုးကိုအဘယ်သူမျှမရှာစေနှင့်၊ သူအ
၂၅ ကျိုးကိုလူတိုင်းရှာစေ၊-ဩတ္တပ္ပစိတ်ကိုထောက်
ရသောကြောင့်၊ဈေး၌ရောင်းသမျှကိုမစစ်ကြော
၂၆ မမေးမြန်းဘဲစားကြလော့၊-အကြောင်းမူကား၊
ထာဝရဘုရားသည်မြေကြီးနှင့်မြေကြီးတန်ဆာ
၂၇ ကိုပိုင်တော်မူ၏၊-မယုံကြည်သောသူသည်သင်တို့
ကိုခေါ်ဖိတ်၍သင်တို့သည်သွားလိုလျှင်၊ဩတ္တပ္ပ
စိတ်ကို ထောက်ရ သောကြောင့်၊ ထင်ထို ရှေ့၌
ထည့်သမျှကို မစစ်ကြော မမေးမြန်းဘဲ စားကြ
၂၈ လော့၊-သို့သော်လည်း၊ဤမည်သောအရာသည်
ရုပ်တုရှေ့၌ ပူဇော်သောယဇ်ကောင်ဖြစ်၏ဟု၊
အစုံအယောက်သောသူဆိုလျှင်၊ ထိုသို့ဆိုသော
သူ၏မျက်နှာကိုငဲ၊ဩတ္တပ္ပစိတ်ကိုငဲထောက်
၂၉ ၍မစားကြနှင့်၊- ဩတ္တပ္ပစိတ်ဟု ဆိုသော်ကိုယ်
စိတ်ကိုမဆိုလို၊သူ့စိတ်ကိုဆိုလို၏၊အခြားသော
သူ၏ စိတ်သည် ငါ၏အခွင့်ကို အဘယ်ကြောင့်
၃၀ စစ်ကြောစီရင်ရမည်နည်း၊-ကျေးဇူးတော်အား
ဖြင့် ငါသုံးဆောင်ရလျှင်၊ ကျေးဇူးတော်ကိုချီး
မွမ်း၍ သုံးဆောင်သည်တွင် အဘယ် ကြောင့်
ကဲ့ရဲ့ပြစ်တင်ခြင်းကိုခံရမည်နည်းဟု ဆိုလျှင်မူ
၃၁ ကား၊-သင်တို့သည်စားသော်၎င်း၊သောက်သော်
၎င်း၊ မည်သည်အမှုကိုပြုသော်၎င်း၊ ဘုရားသခင်
၏ ဘုန်းတော်ကိုထောက်၍၊ ခပ်သိမ်းသောအမှု
၃၂ ကိစ္စကိုပြုကြလော့၊- ယုဒ္ဓားတို့သည်ကထိတ်ထင်
ခြင်းသို့ ရောက်မိမှုသောငှါ၊ ငါသည် ကိုယ်အ
၃၃ ကျိုးကိုမရှာဘဲ သူအကျိုးကိုရှာ၍၊- ခပ်သိမ်း
သောလူတို့၏အလိုသို့အရာရာ၌လိုက်ထည်နည်း
တူ၊ သင်တို့ထည်းယုဒလူ၊ ဟေလသလူ၊ ဘုရား
သခင်၏ အသင်းတော် ဝင်သူတို့၌ ထိမိ၍လဲ စရာ
အကြောင်းကိုမပြုဘဲ၊

၁၁

၁ ငါသည်ခရစ်တော်၏ နည်းတူ ကျင့်သကဲ့သို့
၂ သင်တို့ထည်းငါ့နည်းတူကျင့်ကြလော့၊-ညီအစ်
ကိုတို့၊ သင်တို့သည် အရာရာ၌ ငါ့ကိုအောက်မေ့
၍၊ ငါ အပ်ပေးသော နည်း ဥပဒေသ တို့ ကို စွဲ
လမ်းကြသည်ဖြစ်၍ သင်တို့ကို ငါ ချီးမွမ်း၏၊-
၃ ယောကျ်ား၏ ခေါင်းကား ခရစ်တော် ဖြစ်သည်
ကို၎င်း၊ မိန်းမ၏ ခေါင်းကား ယောကျ်ား ဖြစ်သည်
ကို၎င်း၊ခရစ်တော်၏ခေါင်းကားဘုရားသခင်ဖြစ်
တော်မူသည်ကို၎င်း၊ သင်တို့သိမှတ်စေခြင်းငှါငါ
၄ အလိုရှိ၏၊- ယောကျ်ားမည်သည် ကား၊ မိမိ
ခေါင်းကို ဖုံးလျက် ဆုတောင်းသော်၎င်း၊ ပရော
ဖက်ပြုသော်၎င်း၊ မိမိ ခေါင်း အသရေကို ရှုတ်ချ
၅ ၏၊- မိန်းမမည်သည်ကား၊ မိမိခေါင်းကိုမဖုံးဘဲဆု
တောင်းသော်၎င်း၊ ပရောဖက် ပြုသော်၎င်း၊ မိမိ
ခေါင်းအသရေကို ရှုတ်ချ၏၊- ထိုသို့ပြုလျှင်၊ ဆံ
၆ ပင်ရိတ်သည်နှင့်တူ၏၊ မိန်းမသည် မိမိခေါင်းကို
မဖုံးလျှင်ဆံပင်ကို ဖြတ်စေ၊ ဆံပင်ဖြတ်ခြင်း ဆံ
ပင်ရိတ်ခြင်းအရာသည် ရှက်စရာရှိလျှင် ခေါင်း

၇ တိုင်မည်။ ယောကျ်ားသည် ဘုရားသခင်၏ ပုံ
သဏ္ဍာန်ဘုန်းအသရေတော်ဖြစ်သောကြောင့်
မိမိ ခေါင်းကို မခြုံရ။ မိန်းမမူကား၊ ယောကျ်ား၏
၈ ဘုန်းအသရေ ဖြစ်၏။- ယောကျ်ားသည် မိန်းမ
ကြောင့် ဖြစ်သည်မဟုတ်၊ မိန်းမသည်ယောကျ်ား
၉ ကြောင့်ဖြစ်၏။- ယောကျ်ားကို မိန်းမတို့ ဖန်ဆင်း
သည်မဟုတ်၊ မိန်းမကို ယောကျ်ားအို့ဖန်ဆင်း၏။-
၁၀ ထိုကြောင့်၊ ကောင်းကင်တမန်များကို ထောက်
၍၊ မိန်းမသည်မိမိခေါင်းကိုခြုံရမည်။
၁၁ သို့သော်လည်း၊ သခင်ဘုရား၌ ယောကျ်ားမ
ပါဘဲမိန်းမဖြစ်သည်မဟုတ်၊ မိန်းမမပါဘဲယောကျ်ား
၁၂ ဖြစ်သည်မဟုတ်။- မိန်းမသည်ယောကျ်ားကြောင့်
ဖြစ်သကဲ့သို့ ယောကျ်ားသည် ထည်း၊ မိန်းမ အား
ဖြင့်ဖြစ်၏၊ အလုံးစုံတို့သည်လည်း ဘုရားသခင်
၁၃ ကြောင့် ဖြစ်ကြ၏။- မိန်းမသည်ခေါင်းကို မခြုံဘဲ
လျက်၊ ဘုရားသခင်ကိုဆုတောင်းလျှင်၊ လျောက်
ပတ်သည်မလျောက်ပတ်သည်ကို၊ သင်တို့အလို
၁၄ အလျောက် ဆင်ခြင်စီရင်ကြလော့။- ယောကျ်ား
သည် ရှည်သောဆံပင်ရှိလျှင်၊ ရှက်ဖွယ်သောအ
ကြောင်းဖြစ်သည်ကို၊ သင်တို့ အားပကတိတရား
၁၅ ပင်ဆုံးမ သွန်သင်သည် မဟုတ်လော။- မိန်းမမူကား၊
ရှည်သော ဆံပင်ရှိလျှင်၊ သူ၏ဘုန်းအသရေ ဖြစ်
၏။ အကြောင်းမူကား၊ မိန်းမဆံပင်သည်မိမိချုံစရာ
၁၆ အို့ဖြစ်၏။- သို့သော်လည်း၊ တစုံတယောက်သော
သူသည်ငြင်းခုံလျှင်၊ ငါတို့၌၎င်း၊ ဘုရားသခင်၏
အသင်းတော်တို့၌၎င်းထို သို့သောထုံးစံမရှိ။
၁၇ တဖန်တုံ၊ သင်တို့သည် အကျိုးကို ရှုစုခြင်းငှါ
စည်းဝေးကြသည်မဟုတ်၊ အကျိုးကို နည်းစေ
ခြင်းငှါစည်းဝေးကြသည်ဖြစ်၍၊ ငါသည်ပညတ်
၁၈ ထားစဉ်တွင်သင်တို့ကို မချီးမွမ်းရ။- ပဌမအ
ကြောင်းဟူမူကား၊ သင်တို့သည် အသင်းတော်
၌ စည်းဝေးကြသော အခါ၊ အချင်းချင်း ကွဲပြား
၁၉ ခြင်းရှိသည်ကို ငါကြားရ၏။- ကြားရသည် အ
ထိုင်းမှန်ကောင်းမှန်ထိမ့်မည်။ အကြောင်းမူကား
သင်တို့တွင် ကောင်းမွန်သော သူတို့ကို ထင်ရှား
၂၀ မိမ့်သောငှါ၊ သင်းခွဲခြင်းရှိရမည်။- သင်တို့သည်
အထူစည်းဝေးကြသောအခါ၊ သခင်ဘုရား၏ပွဲ
တော်ကို စားထုံးသော်၍ စည်းဝေးကြသည် မ
၂၁ ဟုတ်။- အကြောင်းမူကား သင်တို့သည်စားကြ
သည်တွင် ကိုယ်စီကိုယ်စီ မိမိအစာကိုအရင်ယူ
၍၊ တချို့ကား၊ ဆာမွတ်လျက်၊ တချို့ကား စား
၂၂ သောက်ကျူးလွန်ရှိကြ၏။- သင်တို့သည်စား
သောက်ရာအိုကိုယ်စီမိမိမရှိသလောအိုမဟုတ်
လျှင်၊ ဘုရားသခင်၏အသင်းတော်ကို မထီမဲ့မြင်
ပြု၍၊ ဆင်းရဲသောသူတို့ကိုရှက်ကြောက်စေသ
လော၊ အသယ်သို့ငါဆိုရမည်နည်း။ ဤအမှုမှာ
သင်တို့ကိုချီးမွမ်းရမည်လော။ မချီးမွမ်းရ။
၂၃ အကြောင်းမူကား၊ သင်တို့၌ငါအပ်ပေးသော
အရာကို သခင်ဘုရားထံ၌ငါခံရပြီ။ ခံရသောအ
ရာဟူမူကား၊ သခင်ယေရှုသည် ရန်သူထံအို
အပ်နှံခြင်းကို ခံသော ရေ့ ည မှာ မုန့်ကို ယူ၍၊-
၂၄ ကျေးဇူးတော်ကိုချီးမွမ်းပြီးမှ မုန့်ကိုဖဲ့၍၊ ဤမုန့်
ကား၊ သင်တို့အဖို့အလို့ငှါ ချိုးဖဲ့သောငါ၏ကိုယ်
ဖြစ်၏။ ယူ၍စားကြလော့။ ငါ့ကိုအောက်မေ့ဖို့ရာ
၂၅ ဤသို့ပြုကြလော့ဟု မိန့်တော်မူ၏။- ထိုနည်းတူ၊
ညစာစားပြီးမှ ခွက်ကိုလည်းယူ၍၊ ဤခွက်ကား၊
ငါ၏ အသွေး၌ တည်သောပဋိညာဉ် တရားသစ်
ဖြစ်၏။ ဤခွက်ကို သောက်သော အခါခါ၊ ငါ့ကို
အောက်မေ့ဖို့ရာသောက်ကြလော့ဟု မိန့်တော်မူ
၂၆ ၏။- အကြောင်းမူကား သင်တို့သည် ထို မုန့်ကို
စား၍၊ ထို ခွက်ကိုသောက်သောအခါခါ၊ သခင်
ဘုရား အသေခံတော်မူခြင်းကိုကြွလာတော်မမူ
၂၇ မှီတိုင်အောင်ပြကြ၏။- ထိုကြောင့်၊ သခင်ဘုရား
၏ မုန့်နှင့်ခွက်ကို မထိုက်မတန်ဘဲ စားသောက်
သော သူမည်သည်ကား၊ သခင်ဘုရား၏ ကိုယ်
တော်နှင့်အသွေးတော်ကို ပြစ်မှားရာရောက်၏။-
၂၈ သို့ ဖြစ် ၍၊ လူတိုင်း ကိုယ် ကို ကိုယ် စစ် ကြော
ပြီးမှ မုန့်ကိုစားစေ၊ ထိုနည်းတူ၊ ခွက်ကိုလည်း
၂၉ သောက်စေ။- အကြောင်းမူကား၊ မထိုက်မတန်
ဘဲ စား သောက် သော သူသည် သခင် ဘုရား၏
ကိုယ်တော်ကိုပိုင်းခြား၍မသိသောကြောင့်၊ မိမိ
အပေါ်သို့ အပြစ်ရောက်စေခြင်းငှါစားသောက်
သောသူဖြစ်၏။
၃၀ ထိုအကြောင်းကြောင့်သင်တို့တွင် အားနည်း
သောသူ၊ မကျန်းမမာ သော သူအများ၊ ရှိကြ၏။
၃၁ သေသော သူအများလည်းရှိကြ၏။-ငါတို့သည်
ကိုယ်ကို ကိုယ်စစ်ကြော စီရင်လျှင်၊ စစ်ကြောစီ
၃၂ ရင်တော်မူခြင်းနှင့်ကင်းလွတ်ကြလိမ့်မည်။-စစ်
ကြော စီရင် တော် မူခြင်းကို ခံရကြ သော အခါ၊
လောကီသား တို့ နှင့်အတူ အပြစ် စီရင်ခြင်း နှင့်
ကင်းလွတ်မည်အကြောင်း၊ ဆုံးမ တော်မူခြင်းကို
၃၃ ခံရကြ၏။- ထိုကြောင့်၊ ညီအစ်ကိုတို့၊ သင်တို့
သည်စားထုံးသောငှါစည်းဝေးသောအခါ၊အချင်း
ချင်းတဘက်ကိုတယောက်စောင့်ဆိုင်းကြလော့။-

၃၄ တစုံတယောက်သောသူသည်ဆာငတ်လျှင်၊သင်
တို့သည်အပြစ်ခံလျှော်မစည်းဝေးစေခြင်းငှါထို
သူသည် မိမိအိမ်၌စားစေ။ ကြွင်းသောအမှုများ
ကိုငါလာသောအခါစီရင်မည်။

၁၂

၁ ညီအစ်ကိုတို့၊ သင်တို့သည် ဝိညာဉ် ဆုကျေး
ဇူးအကြောင်းများကို မသိဘဲနေစေခြင်းငှါငါအ
၂ လိုမရှိ။- သင်တို့သည်အထက်ကသာသနာပလူ
ဖြစ်၍၊ သူတပါး သွေးဆောင် သဖြင့်၊ စကားမ
ပြောနိုင်သောရုပ်တုရှိရာသို့ပါသွားသောသူဖြစ်
၃ ကြောင်းကိုသင်တို့သိကြ၏။- ထိုကြောင့်၊ဘုရား
သခင်၏ ဝိညာဉ်တော်အားဖြင့် ဟောပြော၍အ
ဆယ်သူမျှယေရှုကို မကျိန်ဆဲ နိုင်သည်ကိုဎင်၊
ယေရှုသည်သခင်ဘုရားဖြစ်တော်မူ၏ဟု၊ သန့်
ရှင်းသောဝိညာဉ်တော်ကိုအမှီမပြုလျှင်၊အဘယ်
သူမျှမပြောနိုင်သည်ကိုဎင်၊သင်တို့သည်သိနား
၄ လည်စေခြင်းငှါ ငါသတိပေး၏။- ဆုကျေးဇူး
တော် အထူးထူး အထွေထွေ ရှိပြား သော်လည်း
၅ ဝိညာဉ်တော် တပါးတည်းရှိ၏။- ခစားရာအမှု
အထူးထူးအထွေထွေ ရှိပြားသော် လည်းသခင်
၆ တပါးတည်းရှိ၏။-ပြုပြင်ခြင်းအမှုအထူးထူးအ
ထွေထွေရှိပြားသော်လည်း၊ခပ်သိမ်းသောသူတို့
၌ ပြုပြင်သမျှကို ပြုပြင်တော်မူသောဘုရားသခင်
၇ တပါးတည်းရှိ၏။- ကောင်းသော အကျိုးအလို
ငှါသာဝိညာဉ်တော်ကို လူအသီးအသီးတို့အား
၈ ထင်ရှားစွာ ပေးတော် မူ လျက် ရှိ၏။- အဘယ်
သို့နည်း၊ ဟူမူကား၊ ဝိညာဉ်တော် အား ဖြင့် တ
ယောက်သောသူအား ပညာတရားကိုပေးတော်
မူ၏။ ထိုဝိညာဉ်တော်အားဖြင့်တယောက်သော
သူအား၊ ထိုးထွင်းခြင်းတရားကို ပေးတော်မူ၏။-
၉ ထိုဝိညာဉ် တော်အားဖြင့် တယောက်သော သူ
အား၊ယုံကြည်ခြင်းကိုပေးတော်မူ၏၊ ထိုဝိညာဉ်
တော်အားဖြင့် တယောက် သောသူအား ဒေနာ
ရောဂါကို ငြိမ်းစေနိုင်သောအခွင့်ကို ပေးတော်
၁၀ မူ၏။-တယောက်သောသူအား၊တန်ခိုးကိုပြုနိုင်
သော အ ခွင့် ကိုဎင်၊ တ ယောက် သော သူအား
ပရောဖက်ပြုနိုင်သောအခွင့်ကိုဎင်၊ တယောက်
သောသူ အား မိတ်ဝိညာဉ်တို့ကို ပိုင်းခြား၍ သိ
နိုင်သောအခွင့်ကိုဎင်၊ တယောက်သောသူအား
အမျိုးမျိုးသောဘာသာစကားကို ပြောနိုင်သော
အခွင့်ကိုဎင်၊ တယောက်သော သူ အား ထိုဘာ
သာစကား၏အနက်ကိုဖော်ပြနိုင်သောအခွင့်ကို

၁၁ ဎင်ပေးတော်မူ၏။- ဤအခွင့်ရှိသမျှတို့ကိုတပါး
တည်းသောဝိညာဉ်တော်သည်ပြုပြင်၍၊လူအသီး
အသီးတို့အား အသီးအသီး ခံရသောအခွင့်ကို၊
အလိုတော်ရှိသည့် အတိုင်းဝေငှ၍ပေးတော်မူ၏။
၁၂ ဥပမာကား၊ ကိုယ်တခုတည်း၌ အင်္ဂါအများ
ရှိသည်ဖြစ်၍၊ထိုတခုတည်းသောကိုယ်၏အင်္ဂါ
အပေါင်းတို့သည်များလျှက်နှင့်ကိုယ်တခုတည်း
၁၃ ဖြစ်သကဲ့သို့၊ ထိုနည်းတူခရစ်တော်ဖြစ်၏။- အ
ကြောင်းမူကား၊ယုဒလူဖြစ်စေ၊ဟေလသလူဖြစ်
စေ၊ ကျွန်ဖြစ်စေ၊ လူလွတ် ဖြစ်စေ၊ ငါတို့ ရှိသမျှ
သည် ဝိညာဉ် တော် တ ပါး တည်း အား ဖြင့် တ
ကိုယ်တည်းထဲသို့နှစ်ခြင်းကိုခံကြ၏၊ငါတို့ရှိသ
မျှသည် တမိတ် တဝိညာဉ်တည်း၊ထဲသို့ထည်း
၁၄ သောက်ကြ၏။- ကိုယ်သည်အင်္ဂါတခုတည်းရှိ
၁၅ သည်မဟုတ်၊ အများရှိသည်ဖြစ်၍။- ခြေကငါ
သည်လက်မဟုတ်သောကြောင့် ကိုယ်နှင့် မစပ်
ဆိုင်ဟုဆိုလျှင်၊ထိုသို့ဆိုသောကြောင့်မစပ်ဆိုင်
၁၆ သည်မှန်သလော။- နားကလည်း၊ငါသည်မျက်
စိမဟုတ်သောကြောင့်ကိုယ်နှင့်မစပ်ဆိုင်ဟုဆို
လျှင်၊ ထိုသို့ဆိုသောကြောင့် မစပ်ဆိုင် သည်မှန်
၁၇ သလော။-တကိုယ်လုံးသည်မျက်စိဖြစ်လျှင်၊အ
ဘယ်သို့ကြားနိုင်မည်နည်း၊တကိုယ်လုံးသည်
၁၈ နားဖြစ်လျှင်၊အဘယ်သို့နမ်းနိုင်မည်နည်း။- ထ
ိုမူကား၊ ဘုရားသခင်သည် အလိုတော်ရှိသည်
အတိုင်း၊ အင်္ဂါများ၊ အသီးအသီး တို့ကို ကိုယ်၌
၁၉ ခီရင်ခန့်ထားတော်မူ၏။- ထိုမှတပါး၊ အင်္ဂါအ
ပေါင်းတို့သည်အင်္ဂါတခုတည်းဖြစ်လျှင်၊ ကိုယ်
၂၀ သည် အဘယ်မှာ ရှိလိမ့်မည်နည်း။- ထိုမှတွင်
အင်္ဂါအများရှိလျက်နှင့်ကိုယ်တခုတည်းရှိ၏။-
၂၁ မျက်စိက၊သင့်ကိုငါအလိုမရှိဟုလက်ကိုမဆိုရ။
ထိုနည်းတူ၊ဦးခေါင်းက၊သင်တို့ကိုငါအလိုမရှိ
ဟုခြေတို့ကိုမဆိုရ၊ ထိုမျှမကအားနည်းဟန်ရှိ
၂၂ သောအင်္ဂါတို့သည်သာ၍အသုံးဝင်ကြ၏။- အ
သရေနည်း ဟန်ရှိသော အင်္ဂါ တို့အား ထည်။
၂၃ သာ၍ကြီးသောအသရေကိုပေးတတ်၏။- ဂင့်
တယ်ခြင်းမရှိသော အင်္ဂါတို့သည် သာ၍ ကြီး
၂၄ သော တင့်တယ် ခြင်းကို ခံရကြ၏။- တင့်တယ်
လျှက် ရှိသော ၊ အင်္ဂါတို့ ထည် အခြားသော တင့်
၂၅ တယ်ခြင်းကိုမပေးကြ။-ကိုယ်ခန္ဓာ၌အရှုံးရှုံး
ကွဲပြား ခြင်းမရှိဘဲ၊ အင်္ဂါများတို့သည် အရှုံး
ရှုံးလုကို ကိုယ်နှင့် အမျှ သတိ ပြုစေ ခြင်းငှါ၊
ဘုရားသခင်သည် ကိုယ်ခန္ဓာကို မျှစေ၍၊ လုတ်

သော အင်္ဂါအား သာ၍များသော အသရေကို
၂၆ ပေးတော်မူ၏။— သို့ဖြစ်၍၊ အင်္ဂါတစုတည်းဆင်း
ရဲခြင်းကိုခံရလျှင်၊ အင်္ဂါအပေါင်းတို့သည်အတူ
ခံရကြ၏။ အင်္ဂါတစုသည် ချီးမြှောက်ခြင်းကို ခံ
ရလျှင်၊ အင်္ဂါ အပေါင်း တို့ သည် အတူ ဝမ်း
မြောက်ရကြ၏။
၂၇ သင်တို့သည် ခရစ်တော်၏ကိုယ်ဖြစ်ကြ၏။ အ
၂၈ သီးအသီး အင်္ဂါတော်ဖြစ်ကြ၏။— ဘုရားသခင်
သည်ပဌမအရာ၌တမန်တော်တို့ကိုငှ၊ ဒုတိယ
အရာ၌ ပရောဖက် တို့ ကို ငှ၊ တတိယ အရာ၌
ဆရာတို့ကိုငှ၊ ထိုနောက်၊တန်ခိုးပြသောသူတို့
ကိုငှ၊ ထိုနောက်၊ အနာရောဂါကို ငြိမ်းစေနိုင်
သော အခွင့်ရှိသော သူတို့ကိုငှ၊ သင်းထောက်
တို့ကိုငှ၊ စီရင်အုပ်စိုးသောသူတို့ကိုငှ၊အမျိုး
မျိုးသောဘာသာစကားကို ပြောနိုင်သောသူတို့
၂၉ ကိုငှ၊အသင်းတော်၌ခန့်ထားတော်မူ၏။—သင်း
ဝင်သူ ရှိသမျှ တို့ သည် တ မန် တော် ဖြစ် ကြသ
လော။ ရှိသမျှတို့သည်ပရောဖက်ဖြစ်ကြသလော၊
ရှိသမျှတို့သည်ဆရာဖြစ်ကြသလော။ ရှိသမျှတို့
၃၀ သည် တန်ခိုးကို ပြနိုင်ကြသလော။— ရှိသမျှတို့
သည်အနာရောဂါကို ငြိမ်းစေနိုင်သော အခွင့်ရှိ
ကြသလော။ ရှိသမျှတို့သည်အမျိုးမျိုးသောဘာ
သာ စကားကို ပြောနိုင်ကြသလော။ ရှိသမျှတို့
သည် ထိုဘာသာ စကား၏အနက်ကို ဖော်ပြနိုင်
၃၁ ကြသလော။— သင်တို့သည်အမြတ်ဆုံးသောဆု
ကျေးဇူး တော် တို့ကို အလွန် အလို ရှိကြသည်
တွင်၊သာ၍မြတ်သောလမ်းကိုငါပြဦးမည်။

၁၃

၁ ငါသည်လူဘာသာစကားကိုငှ၊ကောင်းကင်
တမန် ဘာသာ စကား ကို ငှ၊ ပြော နိုင် သော်
လည်း၊ မေတ္တာမရှိလျှင်၊ အသံမြည်သော တံပိုး
ခရာ ကဲ့သို့ ငှ၊ တီးသံ ကိုသာ ပေး တတ် သော
၂ လင်းကွင်းကဲ့သို့ငှဖြစ်၏။—ပရောဖက်ဉာဏ်ကို
ငါရ၍၊ နက်နဲသော အရာရှိသမျှတို့နှင့် သိပ္ပံအ
တတ်အမျိုးမျိုးကိုတတ်သော်ငှ၊တောင်များကို
ရွေ့နိုင်သောယုံကြည်ခြင်း အမျိုးမျိုးနှင့်ပြည့်စုံ
သော်ငှ၊မေတ္တာမရှိလျှင်အချည်းနှီးသတ်သတ်
၃ ဖြစ်၏။— သူတပါးကို ငါကျွေးမွေး၍ဥစ္စာရှိသမျှ
ကိုစွန့်ကြဲသည်သာမက၊ ကိုယ်ခန္ဓာကိုမီးရှို့စေ
ခြင်းငှါအပ်သော်လည်း၊ မေတ္တာမရှိလျှင်ငါ၌အ
၄ ကျိုးမရှိ။—မေတ္တာသည်စိတ်ရှည်တတ်၏။ကျေး
ဇူး ပြုတတ်၏။ မေတ္တာသည် ဝုဏ်ပြိုင်ခြင်း မရှိ၊
၅ ဝါကြွားခြင်းမရှိ၊မာန်မာနမရှိ။—မလျောက်ပတ်
စွာ မကျင့် တတ်၊ ကိုယ် အကျိုးကို မရှာတတ်၊
ဒေါသ အမျက်မထွက်တတ်၊ အပြစ်ရှိသည်ထုမ
၆ ထင်တတ်၊— မတရားသော အမှု၌ ဝမ်း မြောက်
ခြင်းမရှိတတ်၊ သမ္မာတရား၌ ဝမ်းမြောက်တတ်
၇ ၏။— ခပ်သိမ်းသောအရာကိုဖုံးအုပ်တတ်၏။ခပ်
သိမ်းသော အရာကိုယုံတတ်၏။ ခပ်သိမ်းသော
အရာကိုမျှော်လင့်တတ်၏။ ခပ်သိမ်းသောအရာ
၈ ကိုသည်းခံတတ်၏။— မေတ္တာသည် ဓောတ်ပြန့်
ခြင်းသဘောနှင့်အစဉ်ကင်းလွတ်၏။ပရောဖက်
ဉာဏ်သော်ငှ၊အမျိုးမျိုးသောဘာသာစကား
ကို ပြောနိုင်သောအခွင့်သော်ငှ၊ သိပ္ပံအတတ်
သော်ငှကွယ်ပျောက်လိမ့်မည်။
၉ ယခုမူကား၊ငါတို့သည်မစုံမလင်သိတတ်ကြ
၏။ ပရောဖက်ဉာဏ်နှင့် မစုံမလင် ဟောတတ်
၁၀ ကြ၏။— စုံလင်ခြင်းသို့ရောက်သောအခါမူကား၊
မစုံလင်သမျှတို့သည် ကွယ်ပျောက်ကြလိမ့်
၁၁ မည်။— ငါသည်သူငယ်ဖြစ်စဉ်အခါ၊သူငယ်လို
စကားပြော၏။သူငယ်လိုစိတ်ထင်၏။ သူငယ်လို
ကြံစည်၏။ အသက်ကြီးသောအခါ မူကား၊ သူ
၁၂ ငယ်၏အရာများကိုငါပယ်ရှား၏။— ယခုတွင် ငါ
တို့သည်မှန်အားဖြင့်ရိပ်မိလျက်သာနေကြ၏။ထို
အခါမူကား၊ မျက်မှောက်ထင်ထင်မြင်ရကြလိမ့်
မည်။ ယခုတွင် ငါအသိအမြင် မစုံမလင်ဖြစ်၏။
ထိုအခါမူကား၊ သူတပါးသည် ငါ့ကို သိသကဲ့သို့
၁၃ ငါသိရလိမ့်မည်။—ယခုတွင်ယုံကြည်ခြင်း၊မျှော်
လင့်ခြင်း၊ ချစ်ခြင်း၊ ဤသုံးပါးတည်လျက်ရှိ၏။
ဤသုံးပါးတို့တွင် ချစ်ခြင်းမေတ္တာသည် အမြတ်
ဆုံးဖြစ်သတည်း။

၁၄

၁ ချစ်ခြင်းမေတ္တာကို မှီအောင် လိုက်ကြလော့။
ဝိညာဉ် ဆုကျေးဇူးတို့ကို အလွန် အလို ရှိသည်
တွင်၊ပရောဖက်ပြုရသောအခွင့်ကိုသာ၍လိုချင်
၂ သော စိတ်ရှိကြလော့။— အကြောင်းမူကား၊ အ
ခြားသော ဘာသာ စကားအားဖြင့် ပြောသော
သူသည် လူတို့ အား မ ပြော၊ ဘုရား သခင် အား
ပြော၏။သူ၏စကားကိုအဘယ်သူမျှနားမလည်။
နက်နဲသော အရာတို့ကို ဝိညာဉ်တော် အားဖြင့်
၃ ပြော၏။— ပရောဖက် ပြုသော သူ မူကား၊ တည်
ဆောက် ခြင်း၊ ဟိုက်တွန်း သွေး ဆောင် ခြင်း၊
ထက်သာခြင်း အလို့ငှါလူတို့အားဟောပြော၏။—
၄ အခြားသောဘာသာစကားအားဖြင့်ပြောသော

သူသည် ကိုယ်ကို သာ တည်ဆောက်၏၊ ပရော
ဖက်ပြုသော သူမူကား၊ အသင်းတော်ကို တည်
၅ ဆောက်၏။- သင်တို့ရှိသမျှသည် အခြားသော
ဘာသာစကားဖြင့်ပြောစေခြင်းငှါ ငါအလိုရှိ၏၊
ပရောဖက် ပြု စေ ခြင်း ငှါ သာ ၍ အ လို ရှိ၏၊ အ
ကြောင်း မူကား၊ အခြားသော ဘာသာ စကား
ဖြင့်ပြောသောသူသည်၊ အသင်းတော်ကို တည်
ဆောက် ခြင်းငှါ အနက်ကို မဖော် မပြလျှင်၊ ထို
ထက် ပရောဖက် ပြုသော သူသည် သာ ၍ မြတ်
သတည်း။
၆ ညီအစ်ကိုတို့၊ ငါသည် သင်တို့ရှိရာသို့ လာ၍
အ ခြား သော ဘာ သာ စ ကား ဖြင့် ဟောပြော
သော်ထည်း၊ ဗျာဒိတ်တော်ကိုပြန်ခြင်း၊ ပညာအ
သိကိုသင်ခြင်း၊ ပရောဖက်ပြုခြင်း၊ ဆုံးမဩဝါ
ဒပေးခြင်း တစုစုကိုမပြုဘဲလျက်၊ သင်တို့အား
၇ ပြောလျှင် အဘယ်အကျိုးရှိသနည်း။- ထိုနည်း
တူ၊ အသံမြည်တတ်သောအဝိညာဏကစောင်း၊
ပုလွေတို့သည်သေချာသောအသံနှင့်မမြည်လျှင်၊
စောင်းသံ၊ ပုလွေသံတို့ကို အဘယ်သို့သိနိုင်မည်
၈ နည်း။-တံပိုးခရာသည်လည်း၊ မမှန်သောအသံ
နှင့်မြည်လျှင်၊ အဘယ်သူသည်စစ်တိုက်ခြင်းငှါ
၉ မိမိကိုယ်ကိုပြင်ဆင်မည်နည်း။-ထိုနည်းတူ၊ သင်
တို့သည် နားထည့် လွယ်သော စကားကို နှုတ်
ဖြင့်မမြွက်လျှင်၊ မြွက်သော စကားကို အဘယ်
သို့သိနိုင်မည်နည်း။ အာကာသကောင်းကင်ကို
၁၀ ပြောသော သူကဲ့သို့ ဖြစ်လိမ့်မည်။- လူပြည်၌
ဘာသာ စကားမျိုးတို့သည် ဤမျှသောက် များ
၍၊ ခပ်သိမ်းတို့သည် အနက် နှင့် ပြည့်စုံသည်မှန်
၁၁ ပေတော့။- ဘာသာစကား၏အနက်ကို ငါနားမ
ထည်လျှင်၊ ပြောသောသူအား ငါသည် လူရိုင်း
ဖြစ်လိမ့်မည်၊ ပြောသောသူသည်လည်း ငါ့အား
၁၂ လူရိုင်းဖြစ်လိမ့်မည်။- သို့ဖြစ်၍၊ သင်တို့သည်
ဝိညာဉ် ဆုကျေးဇူးတော်တို့ကို အလွန် အလိုရှိ
ကြသည်တွင်၊ အသင်းတော်ကိုတည် ဆောက်
ခြင်းငှါကြွယ်ဝပြည့်စုံမည်အကြောင်း ကြိုးစား
၁၃ ကြလော့။- ထိုကြောင့်၊ အခြားသော ဘာသာ
စကားကို ပြန် ပြော သော သူ သည်၊ အ နက် ကို
ထည့်၊ ဖော်ပြ နိုင် မည် အ ကြောင်း ဆု တောင်း
၁၄ စေ။- အဘယ်ကြောင့်နည်း ဟူမူကား၊ အခြား
သော ဘာသာစကားဖြင့် ငါဆုတောင်းလျှင်၊ ငါ
၏ စိတ် နှစ်လုံး ဆုတောင်း သော် ထည်း၊ ငါ့ဉာဏ်
၁၅ သည် အသီးကိုမပေး။- သို့ဖြစ်လျှင်၊ အဘယ်
သို့ပြုရမည်နည်း။ စိတ်နှစ်လုံးနှင့်ဆုတောင်း၍ ဉာဏ်နှင့်
ဆုတောင်းရမည်၊ စိတ်နှစ်လုံးနှင့် ဆုတောင်း၍
၁၆ ဉာဏ်နှင့်ဆုတောင်းခြင်းသီချင်းဆိုရမည်။- သို့မဟုတ်၊ သင်
သည် စိတ်နှစ်လုံး နှင့် ကျေးဇူးတော်ကို ချီးမွမ်း
သောအခါ၊ မတတ်သောသူ၏အရာ၌ နေသောသူ
သည်သင်၏စကားကို နားမထည်သောကြောင့်၊
ကျေးဇူးတော်ကို ချီးမွမ်းခြင်းသို့ လိုက်၍ အာ
၁၇ မင်ဟုအဘယ်သို့ဝန်ခံနိုင်မည်နည်း။- သင်သည်
ကျေးဇူးတော်ကို ကောင်းမွန်စွာ ချီးမွမ်း သည်
မှန်ပေတော့၊ အ ခြား သော သူ မူ ကား၊ တည်
၁၈ ဆောက်ခြင်းအကျိုးမရှိ။- ငါသည် သင်တို့ရှိသ
မျှထက်၊ အခြားသော ဘာသာစကားဖြင့် ဟော
ပြောသော အရာကို ထောက်၍၊ ဘုရားသခင်၏
၁၉ ကျေးဇူးတော်ကို ချီးမွမ်း၏။- သို့သော်လည်း
အသင်းတော်၌ အခြားသော ဘာသာစကားဖြင့်
စကား တ သောင်း ကို ပြော နိုင် သည် ထက်၊ သူ
တပါးတို့ကို ဆုံးမသွန်သင်ခြင်းငှါ စကား ငါးခွန်းကို
ဉာဏ်နှင့်တကွ ပြောနိုင်သော အခွင့်ကို သာ၍
အလိုရှိ၏။
၂၀ ညီအစ်ကိုတို့၊ သင်တို့သည်ဉာဏ်အရာ၌သူ
ငယ်မဖြစ်ကြနှင့်၊ မတရားသောအမှုအရာ၌ နို့နို့
သူငယ်ဖြစ်ကြလော့၊ ဉာဏ်အရာ၌အသက်ကြီး
၂၁ သောသူ ဖြစ်ကြလော့။- ပညတ္တိကျမ်းစာ၌လာ
သည်ကား၊ အခြားတပါးသောလျှာ၊ အခြားတ
ပါးသော နှုတ်နှင့် ဤလူမျိုးကို ငါ ပြောမည်၊ သို့
သော်လည်း၊ သူတို့သည် နား မထောင် ကြဟု
၂၂ ထာဝရဘုရားမိန့်တော်မူ၏။- သို့ဖြစ်၍၊ အခြား
သောဘာသာစကားတို့သည် ယုံကြည်သောသူ
တို့အားနိမိတ်လက္ခဏာဖြစ်သည်မဟုတ်၊ မယုံ
ကြည်သော သူတို့ အား နိမိတ် လက္ခဏာ ဖြစ်သ
တည်း၊ ပရောဖက်ပြုခြင်းအမှုမူကား၊ မယုံကြည်
သောသူတို့အဖို့မဟုတ်၊ ယုံကြည်သောသူတို့အ
၂၃ ဖို့ ဖြစ်သတည်း။- ထိုကြောင့်၊ အသင်းဝင်သူအ
ပေါင်းတို့သည် စည်းဝေး၍ အခြားသောဘာသာ
ဖြင့်ဟောပြောလျက်နေကြစဉ်တွင် မယုံကြည်
သောသူ၊ မတတ် သော သူသည် ဝင်လာလျှင်၊
သင် တို့ ကို သူ ရူး ဖြစ် ကြ သည် ဟု ပြော မည်မ
၂၄ ဟုတ်လော။- သို့မဟုတ်၊ အသင်းဝင်သူအပေါင်း
တို့ သည် ပရောဖက် ပြု၍ နေ ကြ စဉ် တွင်၊ မယုံ
ကြည် သော သူ၊ မတတ် သော သူသည် ဝင်လာ
လျှင်၊ သင်းဝင်သူ အပေါင်းတို့သည် သူ၏အပြစ်
၂၅ ကို ဖော်ပြ၍ သူ့ကို စစ်ကြောစီရင်ကြ၏။- ထိုသို့

ထူနိမိဘ်နှန်သုံ၊၌မသာ Sရှားသော အချာ ဆိုဿဦ
ထင်ရှာ၊ ပြန်၍ သူ သ ည် ဖြဲ ဝစ်ထျှာ ဘ်၊ ဘုရား
သခင်ကို ကို၊ကြွသ်ဆိ နဲ့မည်၊ ဘုရားသခင်သည်
သင် သို့ ဘွ င် အ နှစ်ဖြိုးဘာ ်မူသည် ဘု သ ဘ်းသခံ
ထိမ်မည်၊

•၁ ညီအစ်ကိုတို့၊အဘယ်သို့နည်း။ သင်တို့စည်း
ဆေးကြွးသာ အခါ၊ ဆာထံသီခြင်းကိုရသောသူ၊
ဆုံးဖြ ဩဝါဒစကားကို ရသောသူ၊ အခြားသော
ထာသာစကားကိုရသောသူ၊ ဗျာမိဘ်းတော်ကိုရ
သောသူ၊ အနဘ်းဖော်ပြချာကိုရသောသူ၊ အသီး
အသီးရှိကြသည်ဖြစ်၍၊ ခပ်သိမ်းသော အမှုတို့
ကိုဘည် ဆောက်ခြင်းအလို့ငှါ စီရင်ကြလော့။-
၁၁ အခြားသော ဘာ သာ စ ကား ဖြင့် ဟော ပြော
သောသူရှိလျှင်၊ နှစ်ယောက်ဖြစ်စေ၊ အများဆုံး
ဆိုသော်၊သုံးယောက်ဖြစ်စေ၊ဘယောက်နောက်
တယောက်ပြော၍ တယောက်သောသူသည်အ
၂၀ နက်ကိုဖော်ပြစေ။- စကားပြန်မရှိလျှင်၊ ဟော
ပြောသော သူသည် အ သင်း းထော်၌ တိဘ် ဆိဘ်
ရွာနေ၍မိမိအားရင်၊ ဘုရားသခင်အားရင် ပြော
၂၉ စေ။-ပရောဖက်နှစ်ယောက်ဖြစ်စေ၊သုံးယောက်
ဖြစ်စေ၊ဟောပြော၍အခြားသောသူတို့သည်စစ်
ကြော ဆင်ခြင် ကြစေ။- ထိုင်လျက် နေသော သူ
အားဘာစုံဘာခုကိုဗွင့်ပြ ဘော်မူလျှင်၊အရင်ဟော
၃၁ ပြောသော သူသည် တိဘ်ဆိတ်စွာ နေစေ။- အ
ကြောင်းမူကား၊ ရှိသမျှ ဘို့သည်သင်ခြင်း၊ငှါ၎င်း၊
ရှိသမျှတို့သည်သက်သာခြင်းငှါ၎င်း၊ သင်တို့အ
သီးအသီး ထယောက်နောက် တယောက် ပရော
၃၄ ဖက် ပြု ရ သော အ ခွင့် ရှိ ကြ၏။- ပရောဖက် တို့
သည်သည်၊၊ မိမိ ဘို့ စိတ်ဝိညာဉ်ကို ချုပ်တည်း
၄၃ နိုင်ကြ၏။-ဘုရားသခင်သည်ရုန်းရင်းခတ်သော
အမှုကို ပြုစဘော်မမူ၊ သန့်ရှင်း သူတို့၏ အသင်း
တော်အပေါင်းတို့၌ ဖြစ်သကဲ့သို့ အသင့်အတင့်
ငြိမ်ဝပ်ခြင်းကိုပြုစုတော်မူ၏။

၄၄ သင်တို့၏ မိမ္မ တို့ သည် အသင်းတော်၌ တိတ်
ဆိတ်စွာနေကြစေ။သူတို့သည်ဟောပြောရသော
အခွင့်မရှိကြ၊ ပညတ်တရား စီရင်သည့်အတိုင်း
သူတို့သည် ယောက်ျား၏ အုပ်စိုးခြင်းကို ဝန်ခံရ
၃၅ ကြမည်။- မိမ္မတို့သည်တစုံတခုကိုသင်လိုလျှင်၊
အိမ်၌မိမိခင်ပွန်းတို့ကိုမေးမြန်းကြစေ။ မိမ္မသည်
အသင်းတော်၌ဟောပြောလျှင်၊ ရှက်ဖွယ်သော
၃၆ အကြောင်းဖြစ်၏။- ဘုရားသခင်၏ နှုတ်ကပတ်
တရားတော်သည် သင်တို့မှ ထွက်သလော။ ဘို့မှ

၈၇ ထုဘ်၊သင်တို့သို့သာရောက်သလော။- ငါသည်
သင် တို့ အား ရေး ၍ ပေး လိုက် သော စကား တို့
သည် သခင်ဘုရား၏ ပညတ်တော် ဖြစ်ကြောင်း
ကို၊ ပရောဖက်ဖြစ်သောသူ၊ ဝိညာဉ် ဆုကျေးဇူး
ကိုခံရသောသူမည်သည်ကား ဝန်ခံပါစေ။တစုံ
တယောက်သောသူသည်မသိလျှင်၊ မသိဘဲနေ
၉၀ စေ။-အချုပ်အခြာဟူမူကား၊ညီအစ်ကိုတို့၊သင်
တို့သည် ပရောဖက်ပြုခြင်းငှါ အလွန်အလိုရှိကြ
၉၉ လော့။- အခြားသော ဘာသာစကားဖြင့် ဟော
ပြောခြင်းအမှုသို့ကိုထည်း မမြစ်တားကြနှင့်။-
၅၀ ခပ်သိမ်းသောအမှုကို တင့်တယ် လျောက်ပတ်
စွာအစည်အထိုင်းစီရင်ကြလော့။

၁၅

၁ ညီအစ်ကိုတို့၊ငါသည်သင်တို့အားဟောပြော
ဘူးသည် နှင့် အညီ၊ သင်တို့ သည် ခံယူ၍ မှီဝဲ
ထည်းကယ်သောဧဝံဂေလိတရားကိုသင်တို့အား
၂ တဖန် ငါကြားလိုဘ်၏။- အထက်က၊ ငါဟော
ပြောသည် အကြောင်းများကို သင်တို့ သည် အ
ကျိုးမဲ့ မယုံဘဲ မိတ်စွဲ လမ်းလျှင်၊ ထို ဧဝံဂေလိ
တရားအားဖြင့်ကယ်တင်တော်မူခြင်းသို့ရောက်
၃ ကြ၏။- ငါသည်ကိုယ်တိုင်ခံယူသည့်အတိုင်း၊
သင်တို့အားရှေ့ဦးစွာအပ်ပေးသောအကြောင်း
အရာဟူမူကား၊ ခရစ်တော်သည် ကျမ်းစာထာ
သည့်အတိုင်း၊ငါတို့အပြစ်ကြောင့် အသေခံတော်
၄ မူ၏။- သင်းဂြိုဟ်ခြင်းမှ၊ ကျမ်းစာ ထာ သည် အ
တိုင်း သုံးရက် မြောက် သော နေ့ ၌ ထ မြောက်
၅ တော်မူ၏။- ကေဖသည်ကိုယ်တော်ကိုမြင်ပြီးမှ၊
၆ တကျိပ်နှစ်ပါးသောသူတို့သည်မြင်ရကြ၏။-ထို
နောက်၊ ညီအစ်ကိုငါးရာမက၊ တပြိုင်နက်မြင်ရ
ကြ၏၊ထိုသူတို့တွင်အများသောသူတို့သည်ယခု
ထိုင်အောင် အ သက် ရှင် ကြသေး၏၊ အချို့တို့
၇ သည်အိပ်ပျော်ကြပြီ။-ထိုနောက်၊ယာကုပ်မြင်
ရ၏၊ ထိုနောက်၊ တမန်တော်အပေါင်းတို့သည်
၈ မြင်ရကြ၏။- နောက်ဆုံး၌ အချိန်မတော်မတန်
၉ ဖွားသောသူကဲ့သို့ ဖြစ်သောငါပင်မြင်ရ၏။- ငါ
သည် အထက်က ဘုရား သခင်၏ အသင်းတော်
ကိုညှဉ်းဆဲသောကြောင့်၊ အညံ့ဆုံးသောတမန်
တော်ဖြစ်၏၊ တမန်တော်ဟုခေါ်ဝေါ်ခြင်းကိုမခံ
၁၀ ထိုက်။-သို့သော်လည်း၊ဘုရားသခင်၏ကျေးဇူး
တော်အားဖြင့်သာ ငါဖြစ်သည့်အတိုင်း၊ ငါ ဖြစ်
၏၊ ငါခံရသောကျေးဇူးတော်ကိုထည်းအကျိုးမဲ့
ခံရသည် မဟုတ်၊ အခြားသော တမန်တော် အ

ပေါင်းထိုက်သော်၊ ငါထက်သာ၍ကြိုးစားခြင်းကိုပြု၏၊ ထိုသို့ဆိုသော်လည်း၊ ငါကြိုးစားသည်မဟုတ်၊
ငါ၌ရှိသောဘုရားသခင်၏ကျေးဇူးတော်
၁၁ သည်ကြိုးစားတော်မူ၏။ ထိုကြောင့်၊ ငါဖြစ်စေ၊
သူတို့ဖြစ်စေ၊ ဤသို့ငါတို့သည်ဟောပြောကြ၏၊
ဤသို့သင်တို့သည်ယုံကြည်ကြ၏။
၁၂ ယခုမှာ၊ ခရစ်တော်သည်သေခြင်းမှထမြောက်
တော်မူကြောင်းကိုဟောပြောရသည်ဖြစ်၍၊ သေ
သောသူတို့သည် ထမြောက်ခြင်းမရှိဟု၊ သင်တို့
တွင် အချို့သော သူတို့သည် အဘယ်ကြောင့်ဆို
၁၃ ရကြသနည်း။ သေသောသူတို့သည်ထမြောက်
ခြင်းမရှိလျှင်၊ ခရစ်တော်သည်ထမြောက်တော်
၁၄ မမူ။ ခရစ်တော်သည်ထမြောက်တော်မမူလျှင်၊
ငါတို့ ဟောပြောခြင်း၌ အကျိုးမရှိ၊ သင်တို့ ယုံ
၁၅ ကြည်ခြင်း၌လည်းအကျိုးမရှိ။ ထိုမျှမက၊ ငါ
တို့သည် ဘုရားသခင်၏အမှုမှာမမှန်သောသက်
၁၆ သေခံဖြစ်ကြ၏။ အကြောင်းမူကား၊ သေလွန်
သောသူတို့သည်ထမြောက်ခြင်းမရှိလျှင်၊ဘုရား
သခင်သည် ခရစ်တော်ကို ထမြောက်စေတော်မ
မူ။ ယခုမှာ၊ ခရစ်တော်ကို ထမြောက်စေတော်မူ
ပြီဟု၊ ငါတို့သည်ဘုရားသခင်၏ အကြောင်းကို
သက်သေခံကြ၏။ သေလွန်သောသူတို့သည်ထ
မြောက်ခြင်းမရှိလျှင်၊ ခရစ်တော်သည်ထမြောက်
၁၇ တော်မမူ။ ခရစ်တော်သည် ထမြောက်တော်မမူ
လျှင်၊ သင်တို့သည်ယုံကြည်သော်လည်းအကျိုး
၁၈ မရှိ၊ ယခုမှိုက်အပြစ်အောက်၌ရှိကြသေး၏။ ထို
မှတပါး၊ ခရစ်တော်ကို ယုံကြည်၍ အိပ်ပျော်
သောသူတို့သည် ဆုံးရှုံးခြင်းသို့ ရောက်ကြပြီ။
၁၉ ငါတို့သည် ခရစ်တော်ကိုအမှီပြု၍ ယခုဘဝ၌
သာ မျှော်လင့်စရာ ရှိလျှင်၊ အခြားသော သူအ
ပေါင်းတို့ထက်သာ၍ဆင်းရဲသောသူဖြစ်ကြ၏။
၂၀ ယခု မူကား၊ ခရစ်တော်သည် သေခြင်းမှ ထ
မြောက်တော်မူ၍၊ အိပ်ပျော်သောသူတို့တွင်အ
၂၁ ဦးသီးသောအသီးဖြစ်တော်မူပြီ။ သို့ဖြစ်၍၊ လူ
အားဖြင့် သေခြင်းတရားသည် တည်သကဲ့သို့၊
သေသော သူတို့၏ ထမြောက်ခြင်း တရားသည်
၂၂ လူအားဖြင့် တည်လျက်ရှိ၏။ လူ အပေါင်းတို့
သည် အာဒံအားဖြင့် သေခြင်းသို့ ရောက် သည်
နည်းတူ၊ လူ အပေါင်းတို့သည် ခရစ်တော်အား
၂၃ ဖြင့်အသက်ရှင်ခြင်းသို့ ရောက်ရကြသတည်း။ သို့
ရာတွင်၊ လူအသီးအသီးတို့သည်မိမိတို့အစဉ့်
အတိုင်း ထိုက်ရကြလိမ့်မည်။ ခရစ်တော်သည်
အဦးသီးသော အသီးဖြစ်တော်မူ၏၊ ထိုနောက်၊
ခရစ်တော်သည် ကြွလာ တော်မူသောအခါ၊ ထ
ပည့်တော်ဖြစ်သောသူတို့သည်ရှင်ခြင်းသို့ရောက်
ကြလိမ့်မည်။
၂၄ ထိုအခါခရစ်တော်သည် အတွင်ရှိအ မြတ်ဆော
သောတန်ခိုး၊ အစိုးရခြင်းကိုပယ်ရှင်း၍၊ မိမိနိုင်ငံကို
ဘုရားသခင်တည်းဟူသောခမည်းတော်၌ အပ်
၂၅ ပြန်တော်မူပြီးမှ၊ ကုန်ဆုံးရသတည်း။ ခရစ်တော်
သည် ရန် သူ အပေါင်း တို့ ကို ခြေ ဖဝါးတော်
အောက်၌ချထားတော်မမူမှီတိုင်အောင် အုပ်စိုး
၂၆ တော်မူရမည်။ နောက်ဆုံးသောရန်သူတည်းဟူ
သော သေမင်းသည် ဆုံးရှုံးခြင်းသို့ ရောက် ရသ
၂၇ တည်း။ ခပ်သိမ်းသော အရာတို့ကို လူသား၏ ခြေ
အောက်၌ ချထားတော်မူသည်ဟု ကျမ်းစာသော
၏၊ ခပ်သိမ်းသောအရာတို့သည်ချထားလျက်ရှိ
ကြောင်းကိုဆိုသော်၊ ခပ်သိမ်းသောအရာတို့ကို
လူသားအောက်၌ ချထားတော်မူသော သူသည်
၂၈ ကြွင်းတော်မူကြောင်း ထင်ရှားသတည်း။ ခပ်
သိမ်းသောအရာတို့သည် လူသားအောက်၌ ချ
ထားလျက်ရှိသောအခါ၊ ခပ်သိမ်းသောအရာတို့
ကိုလူအောက်၌ချထားတော်မူသောသူ၏အုပ်စိုး
တော်မူခြင်းကို၊ သားတော်သည် ကိုယ်တိုင်ဝန်
ခံလိမ့်မည်၊ အကြောင်းမူကား၊ ဘုရားသခင်သည်
အလုံးစုံဖြစ်တော်မူမည်အကြောင်းတည်း။
၂၉ သေလွန်သော သူတို့သည် ထမြောက်ခြင်း အ
လျှင်းမရှိလျှင်၊ သေလွန်သောသူတို့၏ကိုယ်စား
နှစ်ခြင်းကို ခံသော သူတို့သည် အဘယ်သို့ ပြုရ
မည်နည်း။ သေလွန်သော သူတို့၏ ကိုယ်စားအ
၃၀ ဘယ်ကြောင့်နှစ်ခြင်းကိုခံရကြသနည်း။ ငါတို့
သည်လည်း ဘေး ရောက်ဆဲသော အခြင်း အရာ
၃၁ နှင့်အဘယ်ကြောင့်တွေ့ရကြသနည်း။ ငါသည်
နေ့တိုင်းအသေခံရ၏ဟု၊ ငါတို့သခင်ယေရှုခရစ်
၌ သင်တို့ အကြောင်း ကြောင့် ငါ ဝါကြွားဝမ်း
၃၂ မြောက်ခြင်းကို ထိုင်တင်၍ငါဆိုပံ၏။ သေလွန်
သောသူတို့သည်ထမြောက်ခြင်းမရှိလျှင်၊ ဧဖေ
မြို့၌သောက်ဝါတာရအားဖြင့်၊ အထက်ကငါ
သည်သားရဲတို့နှင့်တိုက်သော်လည်း၊ အဘယ်
အကျိုးရှိသနည်း။ စားကြကုန်အံ့၊ သောက်ကြ
၃၃ ကုန်အံ့၊ နက်ဖြန်သေရကြမည်။ အလွဲမထုကြနှင့်။
မကောင်းသော သူတို့နှင့် ပေါင်းဖော်ခြင်း အား
ဖြင့် ကောင်းသော အကျင့် စရော ယိုယွင်း တတ်
၃၄ ၏။ တရားသဖြင့် နိုးကြသော်၊ ဒုစရိုက်ကိုမပြု

ကြနှင့်၊ အချို့သောသူတို့သည်ဘုရားသခင်ကိုမ
သိကြ။ ထိုသို့ဆိုသော်၊ သင်တို့ကိုရှက်ကြောက်
စေခြင်းငှါငါဆို၏။
၃၅ သေလွန်သောသူတို့သည် အဘယ်သို့ထ
မြောက်ကြမည်နည်း။ အဘယ်သို့သော ကိုယ်
နှင့် ပေါ်လာကြမည်နည်းဟု၊ တစုံတယောက်
၃၆ သောသူမေးလိမ့်မည်။-အချင်းလူမိုက်၊သင်စိုက်
၃၇ သောမျိုးစေ့မပျက်လျှင်မရှင်တတ်။-ထိုမှတပါး၊
မျိုးစေ့ကို စိုက်သောအခါ၊ နောက်ဖြစ်လတံ့
သောကိုယ်ကို မစိုက်၊ ဂျုံစပါးဖြစ်စေ၊ အခြား
သောစပါးဖြစ်စေ၊ အစေ့သက်သက်ကို စိုက်
၃၈ တတ်၏။- ဘုရားသခင်သည်အလိုတော်ရှိသည်
အတိုင်းကိုယ်ကိုပေးတော်မူ၏။မျိုးစေ့အသီးအ
သီးတို့အားလည်း၊ မိမိတို့မျိုးအတိုင်း ကိုယ်ကို
၃၉ ပေးတော်မူ၏။- အသားရှိသမျှတို့သည် တမျိုး
တည်းမဟုတ်။ လူသားတမျိုး၊ အမဲသားတမျိုး၊
ငါးသားတမျိုး၊ငှက်သားတမျိုး၊အသီးအသီးရှိ
၄၀ ကြ၏။- ကောင်းကင်အကောင်အထည်လည်း
ရှိ၏၊ မြေကြီးအကောင်အထည်လည်း၊ ရှိ၏၊
ကောင်းကင်အကောင်အထည်၏ ဂုဏ်အသရေ
လည်းတမျိုး၊ မြေကြီးအကောင်အထည်၏ဂုဏ်
၄၁ အသရေလည်း တမျိုးဖြစ်၏။- နေ၏ဂုဏ်အသ
ရေတမျိုး၊လ၏ဂုဏ်အသရေတမျိုး၊ကြယ်တို့၏
ဂုဏ်အသရေတမျိုး၊ အသီးအသီးရှိကြ၏၊
ကြယ်တို့၏ဂုဏ်အသရေသည်လည်း၊ အသီး
၄၂ သီးအခြားခြားဖြစ်ကြ၏။-ထိုနည်းတူ၊သေသော
သူတို့၏ထမြောက်ခြင်းအကြောင်းအရာဖြစ်၏၊
ကိုယ်သည် စိုက်သောအခါ၊ ပုပ်တတ်သော သ
ဘောရှိ၏၊ ထမြောက်သောအခါ မပုပ်နိုင်သော
၄၃ အဖြစ်၌တည်၏။-စိုက်သောအခါဂုဏ်အသရေ
ပျက်၏၊ ထမြောက်သောအခါဂုဏ်အသရေနှင့်
ပြည့်စုံ၏။စိုက်သောအခါအစွမ်းမရှိ၊ထမြောက်
၄၄ သောအခါအစွမ်းနှင့်ပြည့်စုံ၏။- စိုက်သောအခါ
ဓာတ်ပကတိ ကိုယ်ဖြစ်၏၊ ထမြောက်သောအ
ခါဝိညာဉ်ကိုယ်ဖြစ်၏၊ ဓာတ်ပကတိကိုယ်တ
၄၅ မျိုး၊ ဝိညာဉ်ကိုယ်တမျိုးရှိ၏။- ကျမ်းစာလာ
သည်ကား၊ရှေဦးစွာသောလူအာဒံသည်အသက်
ရှင်သောသတ္တဝါဖြစ်၏ဟု လာသတည်း။ ယခု
တွင်နောက်ဆုံးဖြစ်သောအာဒံမူကား၊ အသက်
၄၆ ရှင်စေတတ်သောဝိညာဉ်ဖြစ်၏။- ဝိညာဉ်ကိုယ်
သည်ရှေဦးစွာဖြစ်သည်မဟုတ်၊ဓာတ်ပကတိ
ကိုယ်သည်ရှေဦးစွာဖြစ်၏၊ နောက်မှ ဝိညာဉ
၄၇ ကိုယ်ဖြစ်၏။-ရှေဦးစွာသောလူသည်မြေကြီးက
ဖြစ်သောကြောင့် မြေသား ဖြစ်၏၊ ဒုတိယလူမူ
ကား၊ ကောင်းကင်ဘုံကဖြစ်တော်မူသော သခင်
၄၈ ပေတည်း။- မြေသားတို့သည် ထိုမြေသားကဲ့သို့
ဖြစ်ကြ၏၊ ကောင်းကင်သားတို့သည်ထိုကောင်း
၄၉ ကင်သားကဲ့သို့ဖြစ်ကြလိမ့်မည်။-ငါတို့သည်မြေ
သား၏ ပုံသဏ္ဌာန်ကို ဆောင်သကဲ့သို့၊ ကောင်း
ကင်သား၏ပုံသဏ္ဌာန်ကိုဆောင်ကြလိမ့်မည်။
၅၀ ညီအစ်ကိုတို့၊ငါဆိုသည်ကား၊ လူအသွေးအ
သားသည်ဘုရားသခင်၏ နိုင်ငံတော်ကို အမွေမ
ခံနိုင်။ပုပ်တတ်သောအရာသည်မပုပ်နိုင်သော
၅၁ အဖြစ်ကိုအမွေမခံနိုင်။- နက်နဲသောအရာတခု
ကိုငါပြဦးမည်၊ ငါတို့ရှိသမျှသည်အိပ်ပျော်ရကြ
၅၂ မည်မဟုတ်။- သို့သော်လည်း၊နောက်ဆုံးသော
တံပိုးမှုတ်သောအခါ၊ တခဏချင်းတွင် မျက်စိ
တမှိတ်၌ ငါတို့ရှိသမျှသည် ပြောင်းလဲခြင်းသို့
ရောက်ရကြမည်၊ထိုတံပိုးမှုတ်ချိန်ရောက်သော
အခါ၊သေလွန်သောသူတို့သည်၊မပုပ်နိုင်သော
အဖြစ်၌ တည်လျက်ထမြောက်၍၊ ငါတို့ရှိသမျှ
၅၃ သည်ပြောင်းလဲခြင်းသို့ရောက်ရကြမည်။- ယခု
မျက်မှောက်ပုပ်တတ်သောအရာသည်မပုပ်နိုင်
သောအဖြစ်သို့ဝင်စားရမည်၊ ယခုမျက်မှောက်
သေတတ်သော အရာသည် မသေနိုင်သော အ
၅၄ ဖြစ်သို့ ဝင်စားရမည်။- ဤပုပ်တတ်သော အရာ
သည် မပုပ်နိုင်သောအဖြစ်သို့ဝင်၊ ဤသေတတ်
သော အရာသည် မသေနိုင်သော အဖြစ်သို့ဝင်
ဝင်စားသောအခါ၊သေခြင်းသည် အောင်ခြင်း၌
နစ်မြုပ်ပြီဟု၊ ကျမ်းစာ၌ လာချက် ပြည့်စုံလိမ့်
၅၅ မည်။-အိုသေမင်း၊သင်၏ထက်နက်သည်အဘယ်
မှာရှိသနည်း။ အိုမရဏာနိုင်ငံ၊ သင်၏ အောင်
၅၆ ခြင်းသည် အဘယ်မှာ ရှိသနည်း။- သေမင်း၏
လက်နက်ကား၊ ဒုစရိုက် အပြစ်ပေတည်း၊ ဒုစ
ရိုက်အပြစ်၏ တန်ခိုးကား၊ ပညတ်တရားပေ
၅၇ တည်း။- ငါတို့သခင်ယေရှုခရစ်အားဖြင့် ငါတို့
အား အောင်ခြင်းအခွင့်ကို ပေးတော်မူသော
ဘုရားသခင်၏ကျေးဇူးတော်သည် ကြီးလှစွတ
ကား။-ထိုကြောင့်၊ငါချစ်သောညီအစ်ကိုတို့၊သင်
တို့သည်သခင်ဘုရား၏အမှုတော်ကို ဆောင်ရွက်
၍အကျိုးကြီးသည်ကိုသိမှတ်သဖြင့်တည်ကြည်
သောစိတ်နှင့်ပြည့်စုံ၍၊မရွေ့လျော့မတိမ်းမယိမ်း
ဘဲလျက်၊ သခင်ဘုရား၏ အမှုတော်ကို ကြိုးစား
အားထုတ်ကြလော့။

## ၁၆

၁ သန့်ရှင်းသူတို့ အဖို့လှူတန်း၍ စုထားခြင်းအ
မှုမှာ၊ ဂလာတိပြည်၌ အသင်းတော်များကိုငါ
၂ မှာထားသည်အတိုင်း၊ သင်တို့ပြုကြလော့။- ငါ
ရောက်လာသောအခါလှူတန်း၍ စုထားစရာမရှိ
စေခြင်းငှါ၊ ရက်သတ္တပတ်ရက်တွင်ပဌမနေ့ရက်၌သာသီး
အသီးကောင်းစားသည်အတိုင်း၊၊ မိမိတို့ဥစ္စာတ
၃ မှိကိုထုတ်၍ စုထားကြလော့။- ငါရောက် လာ
သော အခါ၊ သင်တို့ အလိုရှိ သော သူတို့ကို ငါ
သည်ထက်မှတ်စာပေး၍၊သင်တို့လှူသောအလှူ
ကို ယေရုရှလင်မြို့သို့ ပို့ ပိုမ့် သော ငှါ စေ လွှတ်
၄ မည်။- သို့မဟုတ်၊ ငါကိုယ်တိုင်သွားသင့်လျှင်၊
၅ သူတို့သည်ငါနှင့်အတူလိုက်ရကြမည်၊- မာကေ
ဒေါနိပြည်ထဲ၊ကို ငါသွားမည်ဖြစ်၍၊ ထိုပြည်
၆ မှထွက်ပြီးလျှင်သင်တို့ရှိရာသို့လာမည်။-နောက်
မှအခြားသို့ ငါသွားသောအခါ၊ သင်တို့ပို့သော
ကျေးဇူးကိုခံခြင်းငှါ၊သင်တို့ဆီမှာငါတည်း၊ခို၍
ဆောင်းကာလပတ်လုံးနေကောင်းနေလိမ့်မည်။-
၇ ယခုသွားစဉ်တွင်သင်တို့ကိုတွေ့မြင်ခြင်းငှါသာ
အလိုမရှိ၊နောက်မှသခင်ဘုရားသည်အခွင့်ပေး
တော်မူလျှင်၊သင်တို့နှင့်အတူကြာမြင့်စွာ နေမည်
၈ ဟုမျှော်လင့်ခြင်းရှိ၏။- ပင်တေကုတ္တေပွဲနေ့တိုင်
၉ အောင် ဧဖက်မြို့၌ ငါနေရမည်။- အကြောင်းမူ
ကား၊ ငါ့အား ကြီးစွာသော တံခါးသည် အဆင်
သင့်၍ ဖွင့်လျက်ရှိ၏၊ဆီးတားသောသူအ
များလည်းရှိကြ၏။
၁၀ တိမောသေသည်သင်တို့ဆီသို့ရောက်လျှင်၊သူ
သည်ပိုး၊ရိမ်ခြင်းအကြောင်းမရှိဘဲ၊ သင်တို့နှင့်
အတူ နေစေခြင်းငှါ သတိပြုကြလော့၊ သူသည်
ငါကဲ့သို့ပင် သခင်ဘုရား၏ အမှုတော်ကို ဆောင်
၁၁ ရွက်သောသူဖြစ်၏။- ထိုကြောင့်၊အဘယ်သူမျှ
သူကိုမထီမဲ့မြင်မပြုစေနှင့်၊ သူသည် ငါ့ထံသို့ပြန်
ဝင်စွာ ပြန် ရမည် အ ကြောင်း၊၊ ပို့ဆောင် ခြင်း
ကျေးဇူးကို ပြုကြလော့၊ သူသည် အခြားသော
ညီအစ်ကိုတို့ နှင့်အတူ လာလိမ့် မည်ဟု ငါမျှော်
၁၂ လင့်လျက်နေ၏။- ညီ အာပေါလု၏အကြောင်း
မှာ၊ ညီအစ်ကိုတို့နှင့်အတူ သင်တို့ဆီသို့ သွား
မည် အ ကြောင်း၊ ငါ သည် များ စွာ တောင်းပန်၍
တောင်းပန်သော်လည်း၊ သူသည်ယခုသွားခြင်းသွား
ခြင်းငှါအလျှင်းအလိုမရှိ၊ နောက်မှ အဆင်သင့်
လျှင်သွားလိမ့်မည်။
၁၃ သင်တို့သည် သတိနှင့်စောင့်နေကြလော့၊ ယုံ
ကြည်ခြင်း၌တည်ကြလော့၊ ယောကျ်ားအမှုမ်း
ထက်ထိ နှင့် တ ကွ ခွန် အား နှံ ထင် လျှက် နေ ကြ
၁၄ လော့။- သင်တို့သည် ခပ်သိမ်းသောအမှုတို့ကို
ချစ်ခြင်း မေတ္တာစိတ်နှင့် ဆောင်ရွက်ကြလော့။-
၁၅ ညီအစ်ကိုတို့၊ သတေဖနန်၏ အိမ်သူအိမ်သားတို့
သည် အခါယပြည်တွင် အဦး သီးသော အသီး
ဖြစ်၍၊သန့်ရှင်းသူတို့၏အမှုကိုဆောင်ရွက်ခြင်း
ငှါ ကိုယ်ကိုကိုယ်အပ်ကြောင်းကို သင်တို့သိကြ
၁၆ သည်နှင့်အညီ၊-ထိုသို့သောသူတို့၏စကားနားထောင်ခြင်း
ကိုလည်း၊ ငါတို့နှင့် အတူ လုပ်ကိုင်၍ အမှုဆောင်
သောသူရှိသမျှတို့၏ စကားနားထောင်ခြင်းကိုလည်း၊ သင်တို့
၁၇ ဝန်ခံကြမည်အကြောင်း၊ငါတောင်းပန်၏။- သ
တေဖနန်၊ဖော်တုနတ်၊ အခါယကုတို့သည်ရောက်
၁၈ လာသောကြောင့်ငါဝမ်းမြောက်ခြင်းရှိ၏။- အ
ကြောင်းမူကား၊ သင်တို့သည်ပြုစု၍မပြည့်စုံသ
မှုကိုသူတို့သည် ထပ်၍ပြည့်စုံစေသဖြင့်၊ ငါ့စိတ်
နှင့်သင်တို့ စိတ်ကို သက် သာ စေကြ ပြီ၊ ထိုသို့
သောသူတို့ကိုထောက်ခံကြလော့။
၁၉ အာရှပြည်၌အသင်းတော်များတို့သည် သင်
တို့ကို နှုတ်ဆက်ကြ၏၊ အာကုလနှင့် ပြစ်ကီလ
တို့သည်၊ သူတို့အိမ်၌ရှိသော အသင်းတော်နှင့်
တကွ၊ သခင်ဘုရားကိုထောက်၍သင်တို့ကိုများ
၂၀ စွာ နှုတ်ဆက်ကြ၏။- ညီအစ်ကို အ ပေါင်းတို့
သည်သင်တို့ကို နှုတ်ဆက်ကြ၏၊ အချင်းချင်းအ
ယောက်ကိုတယောက် သန့်ရှင်းသော နမ်းခြင်း
နှင့်နှုတ်ဆက်ကြလော့။
၂၁ ငါပေါလုသည် နှုတ် ဆက် ခြင်း အ စာကို
၂၂ ကိုယ်လက်နှင့် ရေးထား၏။- အကြင် သူသည်
သခင်ယေရှုခရစ်ကိုမချစ်၊ ထိုသူသည် အနာထေ
မာဖြစ်စေသတည်း၊၊ သခင်ဘုရားသည် ကြွလာ
၂၃ တော်မူ၏။- ငါတို့ သခင်ယေရှုခရစ်၏ ကျေးဇူး
တော်သည်သင်တို့၌ရှိစေသတည်း။ ယေရှုခရစ်
၏တပည့်တော်ဖြစ်သမျှသောသင်တို့၌ ငါ၏ချစ်
ခြင်းမေတ္တာရှိ၏၊ အာမင်။

ကောရိန္သုဩဝါဒစာပဌမစောင်ပြီး၏။

1314 ၂၄၇

# ကောရိန္သုဩဝါဒစာဒုတိယစောင်

## SECOND EPISTLE TO THE CORINTHIANS

၁

၁ ဘုရားသခင်၏အလိုတော်အားဖြင့်ယေရှုခရစ်
၏တမန်တော်ဖြစ်သောငါပေါလုနှင့်ညီတိမောသေ
သေသည်၊ ကောရိန္သုမြို့၌ ရှိသောဘုရားသခင်
၏ အသင်းတော်မှစ၍၊ အခါယပြည် အရပ်ရပ်
တို့၌ ရှိသော သန့်ရှင်းသူ အပေါင်း တို့ကို ကြား
၂ ထိုက်ပါ၏။– သခင် ယေရှု ခရစ်နှင့် ငါ တို့ အဘ
တည်းဟူသောဘုရားသခင်အထံတော်က ကျေး
ဇူးတော်နှင့် ငြိမ်သက်ခြင်းသည် သင်တို့၌ ရှိပါ
စေသော။

၃ သနားခြင်းကရုဏာ၏အဘ၊ သက်သာခြင်းအ
မျိုးမျိုးတို့၏ အရှင် တည်းဟူသော၊ ငါတို့ သခင်
ယေရှု ခရစ်၏ ခမည်းတော် ဘုရား သခင် သည်
၄ မင်္ဂလာ ရှိတော်မူစေ သတည်း။– ငါ တို့ သည်
ဘုရားသခင်၏ ကျေးဇူး တော် အား ဖြင့် ကိုယ်
တိုင် သက်သာခြင်း ရှိသကဲ့သို့၊ ဆင်းရဲခြင်းအ
မျိုးမျိုးကို ခံရသောသူတို့အား သက်သာစေနိုင်
မည် အကြောင်း၊ ဆင်းရဲခြင်း အမျိုးမျိုး တို့၌
ဘုရားသခင်သည်ငါတို့အားသက်သာစေတော်
၅ မူ၏။– အဘယ်သို့နည်းဟူမူကား၊ ခရစ်တော်
ကြောင့်ငါတို့ခံရသောဆင်းရဲခြင်းသည်အလွန်
များပြားသည်နည်းတူ၊ ခရစ်တော်၏ ကျေးဇူး
အားဖြင့် ငါတို့ခံရသောသက်သာခြင်းသည်အ
၆ လွန်များပြား၏။– သို့ဖြစ်၍၊ငါတို့သည် ဆင်းရဲ
ခြင်းကို ခံရသော်ငှင်၊ သက်သာခြင်းသို့ ရောက်
သော်ငှင်၊သင်တို့၏သက်သာခြင်းနှင့်ကယ်တင်
ခြင်းအကျိုးအလို့ငှါဖြစ်၏။ ငါတို့သည် ဆင်းရဲ
ခြင်းကို ခံရသကဲ့သို့သင်တို့သည် သည်းခံသော
စိတ်နှင့်ခံရသောအားဖြင့်၊ထိုသက်သာခြင်းနှင့်
၇ ကယ်တင်ခြင်းသည်ပြည့်စုံတတ်၏။–သင်တို့အ
တွက်ကြောင့်ငါတို့သည်မရွေ့နိုင်သောမျှော်လင့်
ခြင်းရှိ၏။ သင်တို့သည် ဆင်းရဲခြင်းကို ဆက်ဆံ
သကဲ့သို့၊ ထိုနည်းတူ သက်သာခြင်းကိုဆက်ဆံ
ကြ၏ဟု၊ငါတို့သည်သိကြ၏။

၈ ညီအစ်ကိုတို့၊ အာရှိပြည်၌ ငါ တို့ ခံရသော
ဆင်းရဲခြင်း တည်းဟူသော အထက်မလွတ်နိုင်
ဟုထင်ရ၍၊ မခံနိုင်အောင်အတိုင်းထက်အလွန်
လေးသော ဆင်းရဲခံရကြောင်းကို၊ သင်တို့ မသိ
၉ ဘဲနေစေခြင်းငှါငါတို့အလိုမရှိ။– ငါတို့သည်မိမိ
ကိုယ်ကိုအစည်မကိုးစားဘဲ၊သေသောသူတို့ကို
ထမြောက် စေတော်မူသော ဘုရားသခင်ကို ကိုး
စား မည် အကြောင်း၊ သေ စေ ဟု စီ ရင် ခြင်း ကို
၁၀ ကိုယ် တိုင် ခံရသကဲ့သို့ဖြစ်၏။– ထိုဘုရားသခင်
သည် ငါတို့ကို ထိုမျှလောက် ကြီးစွာသော သေ
ဘေးမှကယ်လွှတ်တော်မူပြီ၊ယခု၌တည်းကယ်
၁၁ လွှတ်တော်မူသေး၏၊– သင်တို့သည် ကူညီ၍ငါ
တို့အဘို့ဆုတောင်းလျှင်၊ နောက်၌လည်း ကယ်
လွှတ် တော် မူလတံ့ဟု၊ ငါ တို့ သည် ယုံ ကြည်
မျှော်လင့်ခြင်းရှိ၏။ ထိုသို့ဖြစ်လျှင်၊အများသော
သူတို့သည် ကူညီ သောအားဖြင့် ငါတို့၌ ရောက်
သော ဆုကျေးဇူးကို အများ သော သူတို့သည်
ထောက်၍ ငါတို့အတွက် ကျေးဇူးတော်ကို ချီး
မွမ်းကြလိမ့်မည်။

၁၂ ငါတို့ ဝါကြွားဝမ်းမြောက် ခြင်း အကြောင်း
ဟူမူကား၊ လောကီ ပညာကို အမှီမပြု၊ ဘုရား
သခင်၏ ကျေးဇူး တော်ကို အမှီပြု၍၊ လွှင်လျှ
သော စိတ် နှင့်ငှင်၊ ဘုရားသခင် ၌ ထို တော် မှ
သောကြည်ညိုခြင်းနှင့်ငှင်၊ ငါတို့သည် ဤလော
က၌ ကျင့်ကြံပြုမူ၍၊ သင်တို့ဆီမှာတည်းထိုသို့
အထူး သဖြင့် ကျင့်ကြံ ပြုမူသည်ဟု၊ ကိုယ်ကို
ကိုယ် သိသောစိတ်သည်သက်သေခံသတည်း။–
၁၃ သင်တို့သည် ဖတ်၍ ဝန်ခံ သောအရာမှ တပါး၊
၁၄ အခြား သော အရာကို ငါ တို့ သည် ရေး၍ ပေး
လိုက်သည် မဟုတ်။ သင်တို့သည် သခင်ယေရှု
ခရစ်၏နေ့၌ ငါတို့၏ ဝါကြွားဝမ်းမြောက်ခြင်း
အကြောင်းဖြစ်သကဲ့သို့၊ငါတို့သည်သင်တို့၏ဝါ
ကြွားဝမ်းမြောက်ခြင်းအကြောင်း ဖြစ်ကြသည်
ဟု၊သင်တို့သည်ငါတို့ကိုအနည်းငယ်အားဖြင့်
ဝန်ခံသည်အတိုင်း၊အစည်ဝန်ခံကြလိမ့်မည်ဟု၊
ငါတို့သည်မျှော်လင့်လျက်နေကြ၏။

၁၅ အစည်ဝန်ခံမည်ဟုငါသဘောကျလျက်ရှိ၍၊
သင်တို့သည် တဝန်ဆုကျေးဇူးတော်ကို ခံရစေ
ခြင်းငှါ ငါသည်သင်တို့ဆီသို့အရင်လာမည်ဟု
၁၆ အကြံရှိ၏။– သင်တို့အနားမှာရှောက်၍မာသေ

ပေါနိပြည်သို့သွား၍လျှင်၊ တဖန်မာကေဒေါနိ
ပြည်မှ သင်တို့နေရာသို့ လာ၍၊ ယုဒပြည်တိုင်
အောင် သင်တို့ပို့ခြင်းကျေးဇူးကို ခံမည်ဟု အ
၁၇ ကြံရှိ၏။ ထိုသို့အကြံရှိသောအခါ၊ လျှပ်ပေါ်
သော စိတ်ရှိသလော။ သို့မဟုတ်၊ ငါ၏စကားမှာ
ဟုတ်မှန်၏၊ ဟုတ်မှန်၏ ဟူ၍၎င်း၊ မဟုတ်မမှန်၊
မဟုတ် မမှန်ဟူ၍၎င်း ဖြစ်စေခြင်းငှါ ငါကြံစည်
သောအရာကို ဇာတိပကတိအတိုင်း ကြံစည်သ
၁၈ လော။ ဘုရားသခင်သည်သစ္စာနှင့်ပြည့်စုံတော်
မူသကဲ့သို့၊ သင်တို့သို့ ငါတို့ပေးလိုက်သော
စကား၌ ဟုတ်မှန်၏ ဟူ၍၎င်း၊ မဟုတ်မမှန်
၁၉ ဟူ၍၎င်းမဆိုလို။ ငါမှစ၍သိလွာနုနှင့်တိမောသေ
တို့သည်သင်တို့အား ဟောပြောသောဘုရား
သခင်၏သားတော်ယေရှုခရစ်သည် ဟုတ်မှန်
၏ ဟူ၍၎င်း၊ မဟုတ် မမှန် ဟူ၍၎င်း မဆိုလိုဘဲ၊
ကိုယ်တော်မှာ ဟုတ်မှန်၏ ဟူ၍သာ ဆိုလိုသ
၂၀ တည်း။ ထိုသခင်မှာဘုရားသခင်၏ဂတိတော်ရှိ
သမျှတို့သည်ငါတို့အားဖြင့်ဘုန်းအသရေတော်
ကို ထင်ရှားစေခြင်း အလို့ငှါ၊ ဟုတ်မှန်၏ ဟူ၍
၂၁ ၎င်း၊ အာမင်ဟူ၍၎င်းဖြစ်သတည်း။ သင်တို့နှင့်
ငါတို့ကို ခရစ်တော်၌ တည်စေ၍ ဘိသိတ်ပေး
၂၂ သော သူကား၊ ဘုရားသခင် ဖြစ်သတည်း။ ထို
ဘုရားသခင် သည် ငါတို့ကို တံဆိပ်ခတ်၍ ငါတို့
ပင်ပဲ နှလုံး၌ ဝိညာဉ် တော် တည်းဟူသော
စားရန်ကိုသွင်းပေးတော်မူ၏။
၂၃ ငါသည် သင်တို့ကို အနားပေးသောကြောင့်သာ
ယခုတိုင်အောင် ကောရိန္သုမြို့သို့ မလာသေး၊ ငါ
၏ ဝိညာဉ်အကျိုး၌ဘုရားသခင်ကိုငါတိုင်တည်
၂၄ ၏။ ထိုသို့ဆိုသော်လည်း၊ ငါတို့သည်သင်တို့၏
ယုံကြည်ခြင်းကို အစိုးရသည်မဟုတ်၊ သင်တို့
၏ဝမ်းမြောက်ခြင်းအကြောင်းကို ကူမ၍သာ ပြု
ကြ၏၊ အကြောင်းမူကား၊ ယုံကြည်
ခြင်းအားဖြင့်သင်တို့သည်တည်နိုင်ကြ၏။

၂

၁ ထိုမှတပါး၊ ဝမ်းနည်းခြင်းနှင့်တကွသင်တို့ဆီ
သို့နောက်တဖန်ငါမလာဟုငါစိတ်ပြဋ္ဌာန်းခဲ့ပြီ။
၂ အကြောင်းမူကား၊ ငါသည်သင်တို့ကိုဝမ်းနည်း
စေလျှင်၊ ထိုသို့ ငါ ဝမ်းနည်းစေသောသူတို့မှတ
ပါး အဘယ်သူသည် ငါ့ကိုဝမ်းမြောက် စေမည်
၃ နည်း။ ငါဝမ်းမြောက်ခြင်း၏အကြောင်းသည်
သင်တို့ရှိ သမျှ၏ ဝမ်းမြောက် ခြင်း အကြောင်း
ဖြစ်သည်ကိုငါသဘောကျသည်ဖြစ်၍၊ ငါရောက်
သောအခါ ငါ့ကိုဝမ်းမြောက်စေအပ်သောသူတို့
သည် ဝမ်းနည်းခြင်းအကြောင်းကို မပြုစေခြင်း
၄ ငှါ၊ အထက်စာကိုငါရေး၍ပေးလိုက်၏။ အလွန်
ဆင်းရဲ ပူပန်သော စိတ်နှင့် မျက်ရည် အများ
ကျလျက်၊ သင်တို့အား ငါရေး၍ ပေးလိုက်၏။
သင်တို့ကိုစိတ်နာစေခြင်းငှါ ငါရေးသည်မဟုတ်။
ငါသည် သင်တို့ အား အလွန် ချစ်သော မေတ္တာ
၅ စိတ်ကိုသင်တို့သိစေခြင်းငှါ ငါရေး၏။ တစုံတ
ယောက်သောသူသည်ဝမ်းနည်းခြင်းအကြောင်း
ကိုပြုသည်မှန်လျှင်၊ သင်တို့တွင် အချို့သောသူ
တို့အားဖြင့်သာ ငါ့ကို ဝမ်းနည်းစေ၏။ သင်တို့ရှိ
၆ သမျှကိုပြုပ်တည်း ငွာမမိရင်လို။ အများသော
သူတို့ ပေးရင်သော ဒဏ်သည် ထိုသူ၏ အပြစ်နှင့်
၇ တန်ပြီ။ သို့ဖြစ်၍၊ ထိုသို့သော သူသည် ဝမ်း
နည်းခြင်းအားကြီးလျက်၊ မိန်းမောတွေဝေခြင်း
မရှိစေခြင်းငှါ၊ သင်တို့သည်ခြားနားသောအား
ဖြင့်သူ၏အပြစ်ကိုလွှတ်၍သူ့ကိုနှစ်သိမ့်စေခြင်း
၈ ငှါပြုသင့်၏။ ထိုကြောင့်၊ သင်တို့သည်သူ့ကိုအ
မှန်ချစ်ကြသည်ကိုထင်ရှားစွာပြမည်အကြောင်း
၉ ငါတောင်းပန်၏။ ထိုမှတပါး၊ သင်တို့သည်အ
ရာရာ၌နားထောင်သည်၊ နားမထောင်သည်ကို
ငါသိလို၍၊ သင်တို့ကို စုံစမ်းသောအားဖြင့် အ
၁၀ ထက်ကရေး၏။ အကြင်သူ၏ အပြစ်ကို သင်တို့
သည်လွှတ်၏၊ ထိုသူ၏ အပြစ်ကို ငါသည်လည်း
လွှတ်၏။ အကြောင်းမူကား၊ ငါ သည် တစုံ တ
ယောက်သောသူ၏အပြစ်ကိုလွှတ်သူဖြစ်လျှင်၊သင်
တို့ကိုထောက်၍ခရစ်တော်၏အခွင့်နှင့်လွှတ်သူ
၁၁ ၏။ သို့မဟုတ်လျှင်၊ စာတန်သည် ငါတို့ကိုနိုင်
မည်ဟု မိုးရိပ်စရာရှိ၏။ သူ၏အကြံအစည်များ
ကိုငါတို့သိကြ၏။
၁၂ ထိုမှတပါး၊ ခရစ်တော်၏ ဧဝံဂေလိ တရားကို
ဟောခြင်းငှါ တရောမြို့သို့ ငါ ရောက်၍၊ သခင်
ဘုရားသည်င်အားဖြင့် တံခါးကို ဖွင့်တော်မူသောအ
၁၃ ခါ၊ ညီတိတုကိုငါမတွေ့သောကြောင့် စိတ်မ
သက်သာသဖြင့်၊ ထိုသူတို့ကို အခွင့်ပန်ပြီးမှ မာ
ကေဒေါနိပြည်သို့ထွက်သွားလေ၏။
၁၄ ငါတို့သည် ခရစ်တော်နှင့် အတူ အောင်ပွဲကို
အစဉ်ခံစေခြင်းငှါ၎င်း၊ ထိုသခင်ကိုသိခြင်း၏အ
မွှေးအကြိုင်သည်ငါတို့အားဖြင့်အရပ်ရပ်တို့၌နံ့
ပြားစေခြင်းငှါ၎င်း၊ ပြုတော်မူသောဘုရားသခင်၏
ကျေးဇူးတော်ကို ချီးမွမ်းခြင်း ရှိစေသတည်း။
၁၅ အဘယ်သို့နည်းဟူမူကား၊ ငါတို့သည်ကယ်တင်

သောသူတို့၌၎င်း၊ ဆုံးရှုံးသောသူတို့၌၎င်း၊ဘုရား
သခင်အား ခရစ်တော်၏ အမွှေးအကြိုင် ဖြစ်ကြ
၁၆ ၏။- ဆုံးရှုံး သော သူတို့ ၌ ကား၊ သေခြင်း တိုင်
အောင်သေခြင်း၏အမွှေးအကြိုင်ဖြစ်ကြ၏။ကယ်
တင် သော သူတို့၌ကား၊ အသက် ရှင်ခြင်း တိုင်
အောင် အသက် ရှင်ခြင်း၏ အမွှေးအကြိုင် ဖြစ်
ကြ၏။ သို့ဖြစ်၍၊ ဤအမှုအရာတို့နှင့်အဘယ်သူ
၁၇ ထိုက်တန်သနည်း။- ဘုရားသခင်၏နှုတ်ကပတ်
တရားတော်ကို မှောက်လှန်သော သူများတို့နှင့်
ငါတို့သည်မတူဘဲ၊ကြည်ဖြူသောစိတ်ရှိ၍ဘုရား
သခင်၏ အလိုတော် နှင့် အညီ၊ ဘုရားသခင် ရှေ့
တော်၌ခရစ်တော်၏တရားကိုဟောပြောကြ၏။

၃

၁ ငါတို့သည် တဖန်ကိုယ်ကို ကိုယ် ချီးမွမ်းကြ
သလော။သို့မဟုတ်၊ ချီးမွမ်းသောစာကို သင်တို့
ထံသို့ သူတပါးပေးစေခြင်း၎ါ၎င်း၊ သင်တို့သည်
သူတပါးထံသို့ပေးစေခြင်း၎ါ၎င်း၊ ငါတို့သည်အ
၂ ချို့သောသူကဲ့သို့ အလိုရှိကြသလော။- သင်တို့
သည်ငါတို့စိတ်နှလုံးပေါ်၌ရေးထားသောစာ၊
လူအပေါင်းတို့သိ၍ ဖတ်တတ်သောငါတို့စာပင်
၃ ဖြစ်ကြသတည်း။- အဘယ်သို့နည်း ဟူမူကား၊
သင်တို့သည် မှင်နှင့်ရေးထားသော စာမဟုတ်။
အသက်ရှင်တော်မူသော ဘုရားသခင်၏ဝိညာဉ်
တော်နှင့်ရေး၍၎င်း၊ကျောက်ပြားပေါ်၌မရေးဘဲ
အသားနှင့် ပြည့်စုံသောနှလုံးပြားပေါ်၌ ရေး
၍၎င်း၊ ငါတို့ပြုစုသောခရစ်တော်၏စာ ထင်ရှား
၄ စွာဖြစ်ကြ၏။- ငါတို့သည် ခရစ်တော်အားဖြင့်
ဘုရား သခင် ရှေ့တော်၌ ထိုသို့သော ယုံမှတ် စွဲ
ထမ်းခြင်းရှိ၏။
၅ သို့ရာတွင်၊ ငါတို့သည် ကိုယ် တန်ခိုးကို အမှီ
ပြု၍၊ကိုယ်အလိုအလျောက်တစုံတခုကိုကြံစည်
ခြင်း၎ါ တတ်နိုင်သည် မဟုတ်။ ဘုရားသခင်ကို
၆ အမှီပြု၍သာတတ်နိုင်သည်နှင့်အညီ၊-ပဋိညာဉ်
တရားသစ်၏ဆရာဖြစ်နိုင်သောအစွမ်းသတ္တိကို
ဘုရားသခင်သည် ငါတို့အားပေးတော်မူ၏။ ထို
သို့ ဆိုသော်၊ ကျမ်းဟောင်း တရားကို မဆိုလို၊
ဝိညာဉ်တော်တရားကို ဆိုလို၏။ ကျမ်းဟောင်း
တရားသည် အသက်ကို သတ်တတ်၏။ ဝိညာဉ်
၇ တော်တရားမူကားရှင်စေတတ်၏။- ထိုမှတပါး၊
ပျောက်တတ်သော ရောင်ခြည် တည်းဟူသော၊
မောရှေ၏ မျက်နှာ မှ ထွက် သော ရောင် ခြည်
ကြောင့်၊ ဣသရေလ အမျိုးသားတို့သည် သူ၏
မျက်နှာကိုစေ့စေ့မကြည့်ရှုနိုင်သည်တိုင်အောင်၊
ကျောက် ပြား ပေါ်၌ အက္ခရာ တင်၍ ရေးထား
သော သေခြင်း၏ တရားသည် ဘုန်းအသရေတော်
၈ နှင့် ပြည့်စုံသည် မှန်လျှင်၊- ထိုမျှမက၊ ဝိညာဉ်
တော်တရားသည် ဘုန်း အသရေတော်နှင့် အလွန်
၉ ပြည့်စုံရလိမ့်မည် မဟုတ် လော။- အပြစ် စီရင်
တတ်သောတရားသည်ဘုန်းအသရေတော်ရှိလျှင်၊
ထိုမျှမက၊ဖြောင့်မတ်စေတတ်သောတရားသည်
ဘုန်းအသရေတော်နှင့် သာ၍ကြွယ်ဝပြည့်စုံ ထိမ့်
၁၀ မည်။- နောက်ဖြစ်သော ဘုန်းသည်အလွန်မြတ်
သောကြောင့်၊ဘုန်းမရှိဘူးသောအရာသည်ဘုန်း
၁၁ ကွယ်လျောက်ရှိ၏။- ပယ်ရှင်းရသော အရာသည်
ဘုန်းရှိလျှင်၊ တည်နေသော အရာသည် သာ၍
ဘုန်းရှိလိမ့်မည်။
၁၂ ထိုသို့ သော ယုံကြည် မျှော်လင့်ခြင်း ရှိသည်
ဖြစ်၍ငါတို့သည် ထိမ်ဝှက်ခြင်းအလျှင်းမရှိ။ အ
၁၃ တည့်အလင်းဟောပြောကြ၏။- ပယ်ရှင်းသော
အရာ၏အဆုံးကိုဣသရေလအမျိုးသားတို့သည်
စေ့စေ့မကြည့်ရှုစေခြင်း၎ါမောရှေသည်မိမိမျက်
၁၄ နှာကို ဖုံးအုပ်သကဲ့သို့ ငါတို့သည်မပြုကြ။- သူ
တို့စိတ်နှလုံးသည် မိုက်မဲလျက်ရှိ၍၊ ယနေ့တိုင်
အောင်ဓမ္မဟောင်းကျမ်းစာကို ဖတ်ကြသောအ
ခါအနက်အဓိပ္ပာယ်သည် ဖုံးအုပ်လျက်ရှိ၏။ အ
ကြောင်းမူကား၊ ခရစ်တော်အားဖြင့်သာ ထိုဖုံး
၁၅ အုပ်ခြင်းအကြောင်းကိုပယ်ရှင်းရ၏။-ယနေ့တိုင်
အောင် ထည်း၊ မောရှေ၏ ကျမ်းစာကို ဖတ်ကြ
သောအခါ၊သူတို့စိတ်နှလုံးသည်ဖုံးအုပ်လျက်
၁၆ ရှိသေး၏။- သို့သော် ထည်း၊ သခင် ဘုရား ထံ
တော်သို့ပြောင်းလဲသောအခါ၊ထိုဖုံးအုပ်ခြင်းအ
၁၇ ကြောင်းကိုပယ်ရှင်းလိမ့်မည်။-သခင်ဘုရားဟု
ဆိုသော်ဝိညာဉ်တော်တရားကိုဆိုလိုသတည်း။
သခင်ဘုရား၏ ဝိညာဉ်တော် တရားသည် လွတ်
၁၈ ခြင်းချမ်းသာကိုပေးတတ်၏။-ငါတို့ရှိသမျှသည်
မျက်နှာဖုံးကို ဖွင့်လျက် မှန်ကို ကြည့်သကဲ့သို့၊
သခင်ဘုရား၏ ဘုန်းအသရေတော်ကိုကြည့်မြင်
၍၊ ဝိညာဉ်တော်တရား၏အရှင်သည်ရောင်ခြည်
တော်ကိုလွှတ်တော်မူသည်အတိုင်း၊ငါတို့သည်
ဘုန်းအသရေတိုးပွား၍ ပုံသဏ္ဌာန်တော်နှင့်အ
ညီပြောင်းလဲခြင်းရှိရကြ၏။

၄

၁ ထိုကြောင့်၊ငါတို့သည်ထိုသို့သောတရား၏အ
မှုကိုဆောင်ရွက်သောသူဖြစ်၍၊ ကရုဏာကျေး

ရုံးတော်ကို ခံရသည်နှင့်အညီ၊ အားလျော့စိတ်
၂ ပျက်ခြင်းနှင့် ကင်းလွတ်ကြ၏။- ဆိတ်ကွယ်ရာ
အရပ်၌ ပြုသော၊ ရှက်ဖွယ်သော အမှုများကို
ပယ်ကြ၏။ ပရိယာယ်ကိုမသုံး၊ ဘုရားသခင်၏
နှုတ်ကပတ်တရားတော်ကိုထိမ်ဖက်မှောက်လှန်
ခြင်းမရှိ၊သမ္မာတရားကိုအတည့်အလင်းဖော်ပြ
၍၊ဘုရားသခင်ရှေ့တော်၌လူအပေါင်းတို့၏စိတ်
ထင်အတိုင်းချီးမွမ်းဖွယ်သောအကျင့်ဝလေ့ကို
၃ ကျင့်ကြ၏။- ငါတို့ဟောပြောသော ဧဝံဂေလိ
တရားသည်ဖုံးအုပ်လျက်ရှိလျှင်၊ဆုံးရှုံးခြင်းသို့
ရောက်သောသူတို့အားသာ ဖုံးအုပ်လျက်ရှိ၏။-
၄ ထိုသို့ မယုံကြည်သောသူတို့ကား၊ ဘုရားသခင်
၏ပုံသဏ္ဌာန်တော်တည်းဟူသော ခရစ်တော်၏
ဘုန်းအသရေနှင့်ပြည့်စုံသောဧဝံဂေလိတရား၏
အရောင်သည် အလင်းကို မပေးစေခြင်းငှါ၊ ဤ
လောကကို အစိုးရသော ဘုရားသည် သူတို့၏
၅ ဉာဏ်မျက်စိကိုကွယ်စေ၏။- ငါတို့သည်ကိုယ်
အကြောင်းကိုဟောပြောကြသည်မဟုတ်၊ ယေရှု
ခရစ်သည်သခင်ဖြစ်တော်မူကြောင်းကိုဎ၊ငါတို့
သည်ယေရှုအတွက် သင်တို့၏ကျွန်ဖြစ်ကြောင်း
၆ ကိုဎ ဟောပြောကြ၏။- မှောင်မိုက် ထဲက အ
ထင်းထွန်းထင်းမည်အကြောင်းမိန့်တော်မူသော
ဘုရား သခင် သည်၊ ယေရှု ခရစ်၏ မျက် နှာ ၌
ထွန်းထင်းသော ဘုရားသခင်၏ ဘုန်း တော်ကို
သိသော ဉာဏ်၏ အရောင်ကို ပေးလိုသောငှါ၊
ငါတို့စိတ်နှလုံးထဲ၌ အထင်းကိုထွန်းလင်းစေ
တော်မူ၏။
၇ သို့သော်လည်း၊တန်ခိုးတော်၏ဂုဏ်အသရေ
သည်ငါတို့နှင့်မဆိုင်၊ ဘုရားသခင်နှင့်ဆိုင်မည်
အကြောင်း၊ထိုဘဏ္ဍာသည်မြေအိုးထဲမှာထည့်
၈ ထားလျက်ငါတို့၌ ရှိ၏။- ငါတို့သည် အမျိုးမျိုး
သော နှောင့်ရှက် ခြင်း ကို ခံရသော်လည်း၊ အ
ကျိုးနည်းခြင်းသို့မရောက်၊မကြံစည်နိုင်အောင်
၉ ရှိသော်လည်း၊စိတ်မပျက်။- ညှဉ်းဆဲခြင်းကိုခံရ
သော်လည်း၊ရှုံးခြင်းမရှိ၊အောက်သို့လှည်းခြင်း
၁၀ ကိုခံရသော်ထည်း၊ ဆုံးရာသို့မရောက်။- သခင်
ယေရှုသည်အသက်ရှင်တော်မူကြောင်းကိုငါတို့
ကိုယ်ခန္ဓာ၌ ထင်ရှား စေခြင်းငှါ၊ ယေရှု၏သေ
တော်မူခြင်းကိုအစဉ်မပြတ်ငါတို့၏ကိုယ်ခန္ဓာ
၁၁ ၌ဆောင်ရကြ၏။- အဘယ်သို့နည်းဟူမူကား၊
ယေရှုသည် အသက်ရှင်တော်မူကြောင်းကို၊ ငါ
တို့၏ သေတတ် သော ကိုယ်ခန္ဓာ ၌ ထင်ရှား စေ
ခြင်းငှါ၊ ငါတို့သည်အသက်ရှင်စဉ်တွင် ယေရှု
ကြောင့် သေခြင်းလက်သို့ အစဉ်အပ် နှံခြင်းကို
၁၂ ခံရကြ၏။- သို့ဖြစ်၍၊သေခြင်းတရားသည်ငါတို့
၌ပြုပြင်တတ်၏။သင်တို့၌ကား၊အသက်ရှင်ခြင်း
၁၃ တရားသည်ပြုပြင်တတ်၏။- ထိုသို့သောယုံကြည်
ခြင်းစိတ်ရှိသည်ဖြစ်၍၊ ငါသည်ယုံကြည်သော
ကြောင့် မြွက်ဆို၏ဟု ကျမ်းစာလာသည်နှင့်အ
ညီ၊ငါတို့သည်ယုံကြည်ခြင်းစိတ်ရှိသောကြောင့်
မြွက်ဆိုဟောပြောကြ၏။
၁၄ သခင်ယေရှုကိုထမြောက်စေတော်မူသောသူ
သည်ယေရှုအားဖြင့် ငါတို့ကိုလည်း ထမြောက်
စေ၍၊ သင်တို့နှင့်အတူအထံတော်၌ သွင်းတော်
၁၅ မူမည်ဟုငါတို့သိကြ၏။- အများသော သူတို့
သည် ကျေးဇူးတော်ကို ချီးမွမ်းသည်နှင့်၊ ထို
ကြွယ်ဝသော ကျေးဇူးတော်သည် ဘုရားသခင်
၏ ဘုန်းအသရေတော်ကို ထင်ရှားစေမည်အ
ကြောင်း၊ ခပ်သိမ်းသော အရာတို့သည် သင်တို့
၁၆ အဖို့အလိုငှါ ဖြစ်သတည်း။- ထိုကြောင့်၊ ငါတို့
သည် အားလျော့စိတ်ပျက်ခြင်းနှင့် ကင်းလွတ်
ကြ၏။ ငါတို့၏ ပြင်လူသည် ဖောက်ပြန်ပျက်စီး
ခြင်းသို့ ရောက်သော်လည်း၊ အတွင်းလူမူကား၊
၁၇ တနေ့ ထက် တနေ့ ပြုပြင်ခြင်း ကို ခံရ၏။- အ
၁၈ ကြောင်းမူကား၊ မျက်မှောက်၌ထင်ရှားသောအ
ရာတို့သည် ခဏသာတည်၍၊ မထင်ရှားသော
အရာတို့သည် အစဉ်အမြဲတည်ကြောင်းကို ငါ
တို့သည်ထောက်လျက်၊ ထင်ရှားသောအရာတို့
ကို မကြည့်မမှတ်ဘဲ၊ မထင်ရှားသော အရာတို့
ကိုကြည့်မှတ်ကြစဉ်အခါ၊ ယခုခဏခံရ၍ပေါ့
ပါးသော ဆင်းရဲခြင်းဒုက္ခသည်၊ အတိုင်းထက်
အလွန်ကြီးမြတ်ထေးထံသော နိစ္စထာဝရ ဘုန်း
အသရေကိုငါတို့အဖို့ဖြစ်စေတတ်၏။

၅

၁ ယာယီတဲဖြစ်သော ငါတို့မြေအိမ်သည် ပျက်
လျှင်၊ ကောင်းကင်ဘုံ၌ လူ လက်ဖြင့် မလုပ်ဘဲ၊
ဘုရားသခင် ဖန်ဆင်းတော်မူသော နိစ္စ ထာဝရ
၂ အိမ်ရှိကြောင်းကို ငါတို့သိကြ၏။- ငါတို့သည်
မြေအိမ်၌ရှိစဉ်တွင်၊ကောင်းကင်အိမ်ထဲသို့ဝင်
စားခြင်းငှါ အလွန်တောင့်တလိုချင်သောစိတ်ရှိ
၃ ၍၊ညည်းတွားမြည်တမ်းလျက်နေကြ၏။ ထိုသို့
၄ ဝင်စားလျှင်နေရာမဲ့ဖြစ်မည်မဟုတ်။- ဤတဲ၌နေ
သောငါတို့သည်လေးသောဝန်ကိုထမ်း၍ညည်း
တွားမြည်တမ်းကြ၏။နေရာထဲ၌ထွက်ချင်သော

ကြောင့် ညည်းတွားသည်မဟုတ်။ သေတတ်
သောအရာကိုအသက်ရှင်ခြင်း၌ ဆုံးရှုံးစေခြင်း
ငှါ၊မြဲသောနေရာထဲသို့ ဝင်စားချင်သောကြောင့်
၅ ညည်းတွားကြ၏။— ထိုသို့သောအကျိုးကို ခံစေ
ခြင်းငှါငါတို့ကို ပြင်ဆင်သော သူကား၊ ဘုရား
သခင်ပေတည်း။ ထိုဘုရားသခင်သည် ဝိညာဉ်
တော်တည်းဟူသော စားရန်ကို ငါတို့အား ပေး
၆ တော်မူပြီ။— ထိုကြောင့်၊ငါတို့သည်ကိုယ်ခန္ဓာ၌
နေမြဲနေစဉ်ကာလ၊သခင်ဘုရားနှင့်ကွာဝေးရာ
အရပ်၌နေသည်ကိုငါတို့သည်သိလျက်၊အစဉ်
၇ ရဲရင့်သော စိတ်ရှိကြ၏။— မျက်မှောက် မမြင်ဘဲ
ယုံကြည် မှော်လင့်ခြင်း ရှိသည်အတိုင်း၊ ငါတို့
၈ သည်ကျင့်ဆောင်ပြုမူသည်ဖြစ်၍၊— ကိုယ်ခန္ဓာ
နှင့်ကွာဝေးရာအရပ်သို့သွား၍၊ သခင်ဘုရားထံ
တော်၌နေမြဲနေခြင်းငှါအလိုရှိလျက်၊ရဲရင့်သော
၉ စိတ်နှင့် ပြည့်စုံကြ၏။— ထိုကြောင့်၊ ငါတို့သည်
နေမြဲအရပ်၌နေသည်ဖြစ်စေ၊ ကွာဝေးရာအရပ်
၌နေသည်ဖြစ်စေ၊ သခင်ဘုရားနှစ်သက်တော်မူ
သော သူဖြစ်ခြင်းငှါ စေတနာစိတ်ရှိ၍ ကြိုးစား
၁၀ အားထုတ်ကြ၏။— အကြောင်းမူကား၊ ငါတို့ရှိ
သမျှသည် ကိုယ်ခန္ဓာ၌ ကျင့်သော အကျင့်၊
ကောင်းမကောင်းရှိသည်အတိုင်းအကျိုးအပြစ်
ကို အသီးအသီး ခံခြင်းငှါ၊ ခရစ်တော်၏ တရား
ပလ္လင်ရှေ့၌ပေါ်လာရကြမည်။
၁၁ ထိုသို့ဖြစ်၍၊သခင်ဘုရားနှင့်ဆိုင်သော၊ကြောက်
မက်ဖွယ်သော အကြောင်းအရာတို့ကို ငါတို့
သည်သိလျှင်၊ လူများကိုနှိုးဆော်သွေးဆောင်ရ
သည်ဖြစ်၍၊ဘုရားသခင်ရှေ့တော်၌ထင်ရှားကြ
၏။ သင်တို့၏ စိတ်ရှေ့၌လည်း ထင်ရှားကြသည်
၁၂ ဟုငါထင်မှတ်၏။— ငါတို့သည် သင်တို့ရှေ့၌ တ
ဖန်ကိုယ်ကိုကိုယ်ချီးမွမ်းကြသည်မဟုတ်။ စိတ်
သဘောကို မထောက်၊ အသွေးအဆင်းကို
ထောက်၍ ဝါကြွားသောသူတို့၏စကားကို သင်
တို့သည် ချေနိုင်မည်အကြောင်း၊ ငါတို့ကြောင့်
၁၃ ဝါကြွားခြင်းအခွင့်ကိုသာပေးကြ၏။—ငါတို့သည်
သူရူးဖြစ်လျှင် ဘုရားသခင်အဖို့ဖြစ်ကြ၏။ စိတ်
ကောင်းသောသူဖြစ်လျှင်သင်တို့အဖို့ဖြစ်ကြ၏။—
၁၄ အကြောင်းမူကား၊ တယောက်သော သူသည်
၁၅ လူအပေါင်းတို့အတွက်ကြောင့် အသေခံသည်
မှန်လျှင်၊ လူအပေါင်းတို့သည် သေလျက်နေကြ
သည်ဟူ၍၎င်း၊ အသက်ရှင်သော သူတို့သည်တ
ဖန်ကိုယ်အလိုသို့ လိုက်၍မရှင်၊ သူတို့အတွက်

ကြောင့်အသေခံပြီးမှထမြောက်တော်မူသောသူ
၏အလိုသို့လိုက်၍ရှင်စေမည်အကြောင်း၊လူအ
ပေါင်းတို့အတွက်ကြောင့်အသေခံတော်မူသည်
ဟူ၍၎င်း၊ ငါတို့သည် သဘောထားလျက်၊ ခရစ်
တော်၏ချစ်ခြင်းမေတ္တာတော်သည်ငါတို့ကိုအနိုင်
၁၆ အထက်သွေးဆောင်၏။—သို့ဖြစ်လျှင်၊ယခုမှစ၍
ငါတို့သည် ဇာတိအမျိုးကိုထောက်၍ အဘယ်
သူကိုမျှမသိမမှတ်။ ဇာတိအမျိုးကိုထောက်၍
ခရစ်တော်ကို အထက်က သိမှတ် သော်လည်း၊
ယခုမှစ၍ထိုသို့သောသိမှတ်ခြင်းမရှိ။
၁၇ လူမည်သည်ကား၊ ခရစ်တော်၌ရှိလျှင်အသစ်
ပြုပြင်သောသတ္တဝါဖြစ်၏။ ဟောင်းသော အရာ
တို့သည် ပြောင်းလဲ၍ ခပ်သိမ်း သော အရာ တို့
၁၈ သည် အသစ်ဖြစ်ကြပြီ။— ထိုသို့ဖြစ်သော်ဘုရား
သခင်၏တန်ခိုးတော်အားဖြင့်ဖြစ်ကြ၏။ ဘုရား
သခင် သည် ယေရှုခရစ်အားဖြင့်ငါတို့၏ ရန်ကို
ငြိမ်းစေ၍ ကိုယ်တော် နှင့် မိဿဟာယ ဖွဲ့စေ
တော်မူ၏။ ထိုမိဿဟာယ တရား ကို ဟော ရ
သောအခွင့်အရာကိုငါတို့၌အပ်ပေးတော်မူ၏။—
၁၉ ထိုတရား ဟူမူကား၊ ဘုရား သခင် သည် ခရစ်
တော်အထဲ၌ ရှိနေလျက်၊ လောကီသားတို့၏ အ
ပြစ်များကိုမှတ်တော်မမူ၊ရန်ကိုငြိမ်းစေ၍ကိုယ်
တော်နှင့် မိဿဟာယ ဖွဲ့စေတော်မူ၏။ ထိုမိဿ
ဟာယတရားကိုလည်း ငါတို့၌ အပ်ပေးတော်မူ
၂၀ ၏။— ထိုကြောင့်၊ ငါတို့သည်ခရစ်တော်၏ သံတ
မန် ဖြစ် ကြ၏။ သင်တို့သည် ရန်ငြိမ်း၍ ဘုရား
သခင်နှင့် မိဿ ဟာယ ဖွဲ့ကြလော့ဟု၊ ဘုရား
သခင်သည်ငါတို့အားဖြင့် နှိုးဆော်သွေးဆောင်
တော်မူသကဲ့သို့၊ ငါတို့သည် ခရစ်တော်၏ ကိုယ်
စားဖြစ်၍သင်တို့ကို တောင်းပန်သွေးဆောင်ကြ
၂၁ ၏။—အဘယ်ကြောင့်နည်းဟူမူကား၊ဘုရားသခင်
သည် အပြစ်နှင့် ကင်းစင်သော သူကို ငါ တို့ အ
တွက်ကြောင့် အပြစ်ရှိသောသူဖြစ်စေတော်မူ၏။
အကြောင်း မူကား၊ ငါတို့သည် ထိုသူအားဖြင့်
ဘုရားသခင်ရှေ့တော်၌ ဖြောင့်မတ်သော သူဖြစ်
မည်အကြောင်းတည်း။

၆

၁ သင်တို့သည်ဘုရားသခင်၏ ကျေးဇူးတော်ကို
အကျိုးမဲ့မခံကြနှင့်ဟု၊ ငါတို့သည်အမှုတော်ကို
ဆောင်ရွက်သော သူချင်းဖြစ်၍ သင် တို့ ကို နှိုး
၂ ဆော်သွေးဆောင်ကြ၏။— ဗျာဒိတ်တော် အချက်
ဟူမူကား၊ နှစ်သက်ဖွယ် သောအမှိန်၌ သင်၏

စကားကိုငါနားထောင်ပြီ၊ ကယ်တင်ရာနေ့ရက်
ကာလ၌သင့်ကိုငါမစပြီဟုလာသည်နှင့်အညီ၊
ယခုပင်နှစ်သက်ဖွယ်သောအချိန်ဖြစ်၏၊ ယခုပင်
၃ ကယ်တင်ရာနေ့ရက်ကာလဖြစ်၏။- တရားဟော
ခြင်း၌ အပြစ်အရာကို အပြစ်တင်ခြင်းနှင့် ကင်း
လွတ်မည်အကြောင်း၊ ထိမိ၍လဲစရာအကြောင်းတ
၄ စုံတခုကိုမျှမပြု။-ညည်းဆဲခံခြင်း၊ ဆင်းရဲခြင်း၊
၅ မလွတ်နိုင်သော ဘေးဥပါဒ်နှင့်တွေ့ခြင်း၊- အ
ရိုက်အပုတ်ခံခြင်း၊ ထောင်ထဲ၌နေခြင်း၊ သူတပါး
ရုန်းရင်းခတ်ပြုခြင်း၊ အမှုကိုလုပ်ဆောင်ခြင်း၊
မအိပ်ဘဲစောင့်နေခြင်း၊ မွတ်သိပ်ခြင်းကိုအလွန်
၆ သည်းခံလျက်၊-စိတ်နှလုံးစင်ကြယ်ခြင်း၊ ပညာ
ရှိခြင်း၊ စိတ်ရှည်ခြင်း၊ ကျေးဇူးပြုခြင်း၊ သန့်ရှင်း
သောဝိညာဉ်တော်ကိုခံခြင်း၊ ချစ်ရောင်မဆောင်
၇ အမှန်ချစ်ခြင်း၊- သမ္မာတရားကိုဟောခြင်း၊
ဘုရားသခင်၏တန်ခိုးတော်ကိုပြခြင်း၊ ဖြောင့်
မတ်သောအကျင့်တည်းဟူသောလက်နက်များ
ကိုလက်ျာဘက်လက်ဝဲဘက်၌ ဝတ်ဆောင်ခြင်း
၈ အားဖြင့်၎င်း၊- အသရေထင်ရှားခြင်းနှင့် ရှုတ်ချ
ခြင်း၊ ချီးမွမ်းခြင်းနှင့်ကဲ့ရဲ့ခြင်းကိုခံသဖြင့်၎င်း၊
လှည့်စားသောသူကဲ့သို့ဖြစ်သော်လည်း၊ ဟုတ်မှန်
၉ သောသူ၊- အထူးသဖြင့်မျှမသိသောသူကဲ့သို့ ဖြစ်
သော်လည်း၊ ကျော်စောသောသူ၊ အသေခံသောသူ
ကဲ့သို့ဖြစ်သော်လည်း၊ အသက်ရှင်သောသူ၊ ဆုံးမ
ခြင်းကိုခံသောသူကဲ့သို့ဖြစ်သော်လည်း၊ အသေ
၁၀ သတ်ခြင်းနှင့်ကင်းလွတ်သောသူ၊- ဝမ်းနည်း
သောသူကဲ့သို့ဖြစ်သော်လည်း၊ အစဉ်ဝမ်းမြောက်
သောသူ၊ ဆင်းရဲသောသူကဲ့သို့ဖြစ်သော်လည်း၊
လူများကိုရတတ်စေသောသူ၊ ဥစ္စာတစုံတခုကို
မျှမပိုင်သောသူကဲ့သို့ ဖြစ်သော်လည်း၊ အလုံးစုံ
တို့ကိုပိုင်သောသူဖြစ်သဖြင့်၎င်း၊ ဘုရားသခင်
ခန့်ထားတော်မူသော စေတမန်ဖြစ်ကြောင်းကို
အရာရာ၌ထင်ရှားစွာပြကြ၏။
၁၁ အချင်းကောရိန္သုလူတို့၊ ငါတို့နှုတ်သည်သင်
တို့အားဖွင့်လျက်ရှိ၏။ စိတ်နှလုံးသည်ထည်း၏
၁၂ ကျယ်ဝန်း၏။-ငါတို့၌သင်တို့သည်ကျဉ်းမြောင်း
သည်မဟုတ်၊ ကိုယ်မေတ္တာကရုဏာ၌သာ
၁၃ ကျဉ်းမြောင်းကြ၏။-ငါတို့ကျေးဇူးကိုဆပ်ခြင်း
အလို့ငှါကျယ်ဝန်းသောစိတ်ရှိကြလော့။ ထိုသို့
ဆိုသော်ကိုယ်သားတို့ကိုဆိုသကဲ့သို့ငါဆို၏။
၁၄ မယုံကြည်သောသူတို့နှင့်တွဲဖက်၍အန္တကျင်
ထက်ဖြစ်သော ထမ်းပိုးကို မထမ်းကြနှင့်။

တရားသောအမှုသည် မတရားသောအမှုတို့ အ
ဘယ်သို့ ဆက်ဆံနိုင်မည်နည်း။ အလင်းသည်
မှောင်မိုက်နှင့်အဘယ်သို့ဆက်ဆံနိုင်မည်နည်း။-
၁၅ ခရစ်တော်သည် ဗေလျာလနှင့်အဘယ်သို့သင့်
တင့်နိုင်မည်နည်း။ ယုံကြည်သောသူသည်မယုံ
ကြည်သောသူနှင့်အတူ အဘယ်အဘို့အဖြစ်
၁၆ ကိုခံရမည်နည်း။- ဘုရားသခင်၏ဗိမာန်တော်
သည် ရုပ်တုတို့နှင့် အဘယ်သို့ စပ်ဆိုင်ရမည်
နည်း။ ဘုရားသခင်မိန့်တော်မူသည်ကား၊ သူတို့
တွင်ငါကျိန်းဝပ်မည်၊ သူတို့တွင်လှည့်လည်၍
သူတို့၏ဘုရားသခင်ဖြစ်မည်၊ သူတို့သည်လည်း
ငါ၏လူဖြစ်ကြလိမ့်မည်ဟု မိန့်တော်မူသည်နှင့်
အညီ၊ သင်တို့သည် အသက်ရှင်တော်မူသော
၁၇ ဘုရားသခင်၏ဗိမာန်တော်ဖြစ်ကြ၏။- ထို
ကြောင့်၊ ထာဝရဘုရားမိန့်တော်မူပြန်သည်ကား၊
သင်တို့သည် ထိုသူတို့အထဲမှထွက်၍ အသီးအ
ခြားနေကြလော့။ မစင်ကြယ်သော အရာကို
ထက်နှင့်မျှမတို့ကြနှင့်။ ထိုသို့ပြုလျှင်၊ သင်တို့ကို
၁၈ ငါသည်လက်ခံမည်။- သင်တို့၏အဘဖြစ်မည်။
သင်တို့သည်လည်း ငါ၏သားသမီးဖြစ်ကြလိမ့်
မည်ဟု၊ အနန္တတန်ခိုးနှင့်ပြည့်စုံသောထာဝရ
ဘုရားမိန့်တော်မူ၏။

၇

၁ ထိုကြောင့်ချစ်သူတို့၊ ထိုဂတိတော်များနှင့်ငါ
တို့သည် ဆိုင်ကြသည်ဖြစ်၍၊ ကိုယ်ခန္ဓာ၏ အ
ညစ်အကြေး၊ စိတ်ဝိညာဉ်၏ အညစ်အကြေးရှိ
သမျှတို့နှင့် ကိုယ်ကိုကိုယ်ကင်းစင်စေလျက်၊
ဘုရားသခင်ကိုကြောက်ရွံ့၍ သန့်ရှင်းခြင်းပါရ
မီနှင့်ပြည့်စုံကြကုန်အံ့။
၂ ငါတို့ကိုလက်ခံကြလော့။ ငါတို့သည်အဘယ်
သူကိုမျှ မပြစ်မှား၊ အဘယ်သူကိုမျှ မယိုယွင်း
စေ၊ အဘယ်သူ၏ဥစ္စာကိုမျှပရိယာယ်အားဖြင့်
၃ မယူ။-သင်တို့ကိုအပြစ်တင်၍ ဤသို့ငါဆိုသည်
မဟုတ်၊ သင်တို့နှင့်အတူအသက်ရှင်ခြင်းငှါလည်း
သေခြင်းငှါလည်း အလိုရှိသည်တိုင်အောင်၊ ငါတို့
သည် သင်တို့ကိုချစ်ကြ၏ဟု အထက်က ငါပြောခဲ့
၄ ပြီ။- သင်တို့ကြောင့်အလွန်ရဲရင့်ခြင်းရှိ၏။ သင်
တို့ကြောင့်အလွန်ဝါကြွားခြင်းရှိရ၏။ သက်သာ
ခြင်းနှင့်ပြည့်စုံ၏။ ညှဉ်းဆဲခြင်းကိုခံလေရာရာ၌
၅ အလိုင်းထက်အလွန်ဝမ်းမြောက်ခြင်းရှိ၏။- ငါ
တို့သည်မာကေဒေါနိပြည်သို့ရောက်သောအခါ၊
ကိုယ်ကာယငြိမ်ဝပ်ခြင်းအလျှင်းမရှိ။ အရာရာ၌

ညှဉ်းဆဲခြင်းကိုခံရကြ၏။ ပြင်၌ကားတိုက်ဖျက်
ခြင်းရှိ၏၊ အတွင်း၌ကားစိုးရိမ်ခြင်းရှိ၏။
၆ သို့သော်လည်း၊ နှိမ့်ချလျက်ရှိသော သူတို့ကို
သက်သာစေတော်မူတတ်သော ဘုရားသခင်
သည်၊ တိတုရောက်လာသောအားဖြင့် ငါတို့ကို
၇ သက်သာစေတော်မူ၏။– တိတုရောက်လာခြင်း
အားဖြင့်သာသက်သာစေတော်မူသည်မဟုတ်၊
တိတုသည် သင်တို့ဆီမှာရသော သက်သာခြင်း
အားဖြင့်လည်းသက်သာစေတော်မူ၏။ အဘယ်
သို့နည်းဟူမူကား၊ သင်တို့၏တောင့်တခြင်း၊
ညည်းတွားခြင်း၊ ငါ၏အကျိုးအလို့ငှါစေဘနာ
စိတ်အားကြီးခြင်း အကြောင်းအရာများကို သူ
သည် ငါတို့အား ကြားပြော၏။ ထိုကြောင့်၊ ငါ
၈ သည်သာ၍ဝမ်းမြောက်ခြင်းရှိ၏။– အထက်က
ပေးလိုက်သောစာအားဖြင့်သင်တို့ကိုဝမ်းနည်း
စေသောကြောင့်၊ ငါသည်ယခင်အခါ၌နောင်တ
ရှိသော်သည်း ယခုအခါ၌မရှိ။ အကြောင်းမူ
ကား၊ ထိုစာသည်သင်တို့ကို ခဏသာဝမ်းနည်း
စေသည်ကိုငါမြင်၏။
၉ သင်တို့ကိုဝမ်းနည်းစေသောကြောင့် ငါဝမ်း
မြောက်သည်မဟုတ်၊ ဝမ်းနည်း၍နောင်တရ
သောကြောင့်ငါဝမ်းမြောက်ခြင်းရှိ၏၊ ငါတို့အား
ဖြင့် သင်တို့၏ အကျိုးအလျှင်း မပျက်ရမည်အ
ကြောင်း၊ ဘုရားသခင်၏ အလိုတော်နှင့် အညီ
၁၀ ဝမ်းနည်းစေကြ၏။–အဘယ်သို့နည်းဟူမူကား၊
ဘုရားသခင်၏အလိုတော်နှင့်ညီသောဝမ်းနည်း
ခြင်းသည်ကယ်တင်ခြင်းနှင့်ဆိုင်သောနောင်တ
စိတ်တည်းဟူသော၊ မပြောင်းလဲနိုင်သောနောင်
တစိတ်ကိုပြုပြင်တတ်၏။ လောကီဝမ်းနည်းခြင်း
၁၁ မူကား၊ သေခြင်းကိုပြုပြင်တတ်၏။– ဘုရားသခင်
၏အလိုတော်နှင့်ညီသော၊ သင်တို့၏ ဝမ်းနည်း
ခြင်းသည် သင်တို့၌ အဘယ်သို့သော သတိပြု
ခြင်း၊ ကိုယ်အပြစ်ကို ဖြေခြင်း၊ အမျက်ထွက်
ခြင်း၊ ကြောက်ရွံ့ခြင်း၊ အလွန်တောင့်တခြင်း၊ ငါ
၏အကျိုးအလို့ငှါ စိတ်အားကြီးခြင်း၊ တရားသ
ဖြင့်ဒဏ်စီရင်ခြင်းတို့ကို ပြုပြင်သည်ကိုကြည့်
ရှုကြလော့၊ သင်တို့သည် ဤအမှု၌ အပြစ်ကင်း
၁၂ သည်ကိုအရာရာအားဖြင့်ထင်ရှားပြကြပြီ။–ထို
သို့နှင့်အညီ၊ ငါသည် သင်တို့အား ရေး၍ ပေး
လိုက်သော အခါ၊ ပြစ်မှားသောသူနှင့် ပြစ်မှား
ခြင်းခံရသောသူကိုသာ ထောက်၍ ရေးသည်မ
ဟုတ်၊ သင်တို့အကျိုးကိုငါတို့သည်ဘုရားသခင်
ရှေ့တော်၌ ပြုစုချင်သော စေတနာစိတ်ရှိကြောင်း
ကို သင်တို့အား ထင်ရှားစေခြင်းငှါ ရေးသ
၁၃ တည်း။– ထိုကြောင့်၊ သင်တို့၏သက်သာခြင်းအ
ကြောင်းအားဖြင့်၊ ငါတို့သည်လည်းသက်သာ
ခြင်းသို့ ရောက်သည်သာမက၊ တိတု၏ဝမ်း
မြောက်ခြင်းအကြောင်းအားဖြင့် သာ၍ အလွန်
ဝမ်းမြောက်ကြ၏။ သင်တို့ရှိသမျှသည်ထိုသူ၏
စိတ်နှစ်လုံးကို သက်သာ ဝမ်းမြောက်စေကြ
၁၄ သည်ဖြစ်၍၊– အထက်ကငါသည် သင်တို့ကိုအ
ကြောင်းပြု၍ ဝါကြွားသောစကားကိုထိုသူအား
ပြောပြီးလျှင်၊ ယခုရှက်ကြောက်ခြင်းမရှိ။ ငါတို့
သည်အရာရာ၌ သင်တို့အား ဟုတ်မှန်စွာပြော
သည်နည်းတူ၊ တိတုရှေ့၌ငါဝါကြွားသောစကား
သည်လည်း မှန်သော စကားဖြစ်ကြောင်း ထင်
၁၅ ရှား၏။– သင်တို့သည် ကြောက်ရွံ့တုန်လှုပ်ခြင်း
နှင့် သူကို လက်ခံ၍ နားထောင်ကြသည်ကိုသူ
သည် အောင်းမေ့သဖြင့်၊ သင်တို့ကို ချစ်သနား
ခြင်းမေတ္တာကရုဏာစိတ်နှင့်အလွန်ပြည့်စုံ၏။–
၁၆ ငါသည်အရာရာ၌သင်တို့ကိုယုံနိုင်သောကြောင့်
ဝမ်းမြောက်ခြင်းရှိ၏။

၈

၁ ညီအစ်ကိုတို့၊ ဘုရားသခင်သည်မာကေဒေါနိ
ပြည်၌ ရှိသော အသင်းတော်များတို့အား ပြု
တော်မူသောကျေးဇူးတော်အကြောင်းကို ငါတို့
၂ သည်သင်တို့အားကြားပြောကြ၏။–ထိုအသင်း
တော်တို့သည် ညှဉ်းဆဲခြင်း အားဖြင့် များစွာ
သောစုံစမ်းခြင်းကိုခံရသော်လည်း၊ အလွန်ကြီး
သော ဝမ်းမြောက်ခြင်းနှင့်၊ ဥစ္စာပြွန်းတီးသော
ဆင်းရဲခြင်း အကြောင်းသည်၊ သူတို့၏ စွန့်ကြဲ
ပေးကမ်းခြင်းစည်းစိမ်ကိုဖြစ်စေ၍ကြွယ်ဝပြည့်
၃ စုံ၏။– အကြောင်းမူကား၊ သူတို့သည်တတ်နိုင်
သမျှထက်မက၊ အလိုအလျောက် စွန့်ကြဲချင်
သောစေတနာစိတ်ရှိကြသည်ဟု ငါသည်သက်
၄ သေခံ၏။– သူတို့အလှူပါနကိုငါတို့သည်ယူ၍သူ
တို့နှင့် ကူညီလျက်၊ သန့်ရှင်းသူတို့အား လုပ်
ကျွေးခြင်းအမှုကို ဆောင်ရွက်မည်အကြောင်း၊
သူတို့သည် တိုက်တွန်းသွေးဆောင်သောစကား
၅ များအားဖြင့် ငါတို့ကိုတောင်းပန်ကြ၏။– ထိုသို့
ပြုကြသော်၊ ငါတို့မျှော်လင့်သည်အတိုင်း ထက်
မကပြု၍၊ ဘုရားသခင်၏ အလိုတော်နှင့် အညီ
ရှေဦးစွာသခင်ဘုရား၌၎င်း၊ ငါတို့၌၎င်း၊ မိမိတို့ကို
၆ မိမိတို့လှူကြ၏။– ထိုကြောင့်၊ တိတုသည်သင်တို့

ၡ်အဦးပြုနှင့်သကဲ့သို့ ထိုအလှူကျေးဇူးကိုပြီးစီး
စေမည် အကြောင်း၊ ငါတို့သည်သုကို တောင်း
၇ ပန်ကြ၏။-ထိုသို့နှင့်အညီသင်တို့သည်ယုံကြည်
ခြင်း၊တရားဟောခြင်း၊ညာဏ်ရှိခြင်း၊အမျိုးမျိုး
သောသတိနှင့်ပြည့်စုံခြင်း၊ ငါတို့ကိုချစ်ခြင်းမေ
သောအလုံးစုံတို့နှင့်ကြွယ်ဝပြည့်စုံသည်ဖြစ်၍
ထိုကျေးဇူးနှင့်သည်းကြွယ်ဝပြည့်စုံခြင်းဖြစ်စေ
၈ သတည်း။-ထိုသို့ဆိုသော်၊ပညတ်အားဖြင့်ငါဆို
သည်မဟုတ်၊ အခြားသောသူတို့၏ကြိုးစားအား
ထုတ်ခြင်းကို အစွဲပြု၍၊ သင်တို့၏ မေတ္တာသည်
မှန်သည်မမှန်သည်ကိုစုံစမ်းသောအားဖြင့်ဆိုသ
၉ တည်း။- အကြောင်းမူကား၊ ငါတို့သခင်ယေရှု
ခရစ်သည် စည်းစိမ်ရှိသော်လည်း၊ဆင်းရဲတော်
မူခြင်းအားဖြင့် သင်တို့သည် စည်းစိမ်ရှိစေခြင်း
ငှါ၊ သင်တို့အတွက် ကြောင့် ဆင်းရဲ ခြင်းကို ခံ
တော်မူသောကျေးဇူးတော်ကိုသင်တို့သိကြ၏။
၁၀ ဤအမှု၌ ငါသည်ကိုယ်သဘောကိုပြ၏။ မနှစ်
ကပင် အဦးပြုသည်သာမက၊ စေတနာ စိတ်နှင့်
ပြည့်စုံ သော သင်တို့သည် ဤအမှုကို ပြီးစီးစေ
၁၁ လျှင် သာ၍ ကောင်းလိမ့်မည်။- သို့ဖြစ်၍၊ အ
ထက်က စေတနာ စိတ် ရှိ သည် နှင့် အညီ၊ ယခု
တွင်သင်တို့သည်တတ်နိုင်သည်အတိုင်းပြု၍ ဤ
၁၂ အမှုကိုပြီးစီးစေကြလော့။- အကြောင်းမူကား၊
စေတနာ စိတ်သည် အသင့်ရှိလျှင်၊ မတတ် နိုင်
သောအမှုကိုမထောက်ဘဲ၊ တတ် နိုင်သော အမှု
၁၃ ကိုထောက်၍ နှစ်သက်တော်မူဖွယ်ဖြစ်၏။- ဤ
အမှုအရာ၌အခြားသောသူတို့သည်ချမ်းသာရ၍
သင်တို့သည်ဆင်းရဲစေခြင်းငှါ ငါ အကြံရှိသည်
၁၄-၁၅ မဟုတ်။- များများရသောသူမပို၊-နည်းနည်း
ရသောသူမလိုဟူသောကျမ်းစကားနှင့်အညီ၊ မျှ
ခြင်းတရားကို ထောက်၍၊ ယခု၌သင်တို့၏ စည်း
စိမ်သည်သူတို့၏ဆင်းရဲကိုမစသဖြင့်ရင်း၊နောင်၌
သူတို့၏စည်းစိမ်သည်သင်တို့၏ဆင်းရဲကိုမစသ
ဖြင့်ရင်း၊အညီအမျှဖြစ်စေခြင်းငှါငါအကြံရှိ၏။
၁၆ ထိုသို့သင်တို့၏အကျိုးကို ပြုစုချင်သောစေတ
နာစိတ်ကို ဘုရားသခင်သည် တိတုအားလည်း
၁၇ ပေးတော်မူသောကျေးဇူးတော်ကြီးလှပေ၏။-ထို
သူသည်ငါတိုက်တွန်းသောစကားကိုနားထောင်
သည်သာမက၊ အလွန်စေတနာစိတ်အားကြီး၍
၁၈ သင်တို့ဆီသို့ အလို အလျောက် သွား၏။- ဧဝံ
ဂေလိတရားကို ဟောပြော၍ အ သင်းတော် အ
ပေါင်းတို့၌ ချီးမွမ်းခြင်းကို ခံရသောညီကိုလည်း
၁၉ ထိုတုနှင့် အတူ ငါတို့ စေလွှတ်ကြ၏။- ထိုညီမူ
ကား၊သခင်ဘုရား၏ ဂုဏ်အသရေတော်ကိုရင်း၊
ကိုယ်စေတနာ စိတ်ကိုရင်း ငါတို့သည် ထင်ရှား
စေ၍၊ အသင်းတော်များ၏ အလှူကျေးဇူးကိုပြု
စုသည်အမှုမှာ ငါတို့နှင့် အတူသွားစေခြင်းငှါ၊
အသင်းတော်တို့သည် ရွေးကောက်၍ ခန့်ထား
၂၀ သောသူဖြစ်သတည်း။- ငါတို့သည် ထိုများစွာ
သောအလှူကျေးဇူးကို ပြုစုရာတွင် အပြစ်တင်စ
ရာအကြောင်းအလျှင်းမရှိစေခြင်းငှါသတိပြုကြ
၂၁ ၏။-သခင်ဘုရားရှေ့တော်၌မက၊လူတို့ရှေ့၌တင့်
တယ်လျောက်ပတ်သောအကျင့်ကို ကြံစည်ကြ
၂၂ ၏။-ထိုသူနှစ်ယောက်နှင့်အတူ အခြားသောညီ
ကိုလည်းစေလွှတ်ကြ၏။ထိုညီမူကား၊ငါတို့သည်
အရာရာ၌ အဖန်ဖန် စုံစမ်း၍ သိသည် အတိုင်း
လုံ့လပြုသောသူဖြစ်၏။ ယခု၌သင်တို့ကိုအထွန်
၂၃ ယုံသောကြောင့်သာ၍လုံ့လပြု၏။- တိတုသည်
အဘယ်သို့သောသူနည်းဟုတစုံတယောက်မေး
လျှင်၊ငါ၏အပေါင်းအဖော်ဖြစ်၏။သင်တို့အမှုကို
ငါနှင့်အတူဆောင်ရွက်သောသူလည်းဖြစ်၏။အ
ခြားသောညီအစ်ကိုတို့မူကား၊အဘယ်သို့သော
သူနည်းဟု မေးလျှင်၊ အသင်းတော်များ၏တမန်
ဖြစ်ကြ၏။ ခရစ်တော်၏ဘုန်းအသရေထည်းဖြစ်
၂၄ ကြ၏။- ထိုကြောင့်၊ သင်တို့၏ချစ်ခြင်းမေတ္တာကို
ရင်း၊ ငါတို့သည်သင်တို့ကြောင့် ဝါကြွားခြင်းအ
ကြောင်းကိုရင်း၊အသင်းတော်များရှေ့တော်မှောက်၌
ထိုသူတို့အားထင်ရှားစွာပြကြလော့။

၉

၁ သန့်ရှင်းသူတို့ကို လုပ်ကျွေးခြင်း၏ အမှုအရာ
များကို သင်တို့အား ငါရေး၍ ကြားလိုက်သော်
၂ အကျိုးမရှိ။-အကြောင်းမူကား၊ သင်တို့၏စေတ
နာစိတ်ကိုငါသိ၏။ သင်တို့၌ ရှိသောထိုစေတနာ
စိတ်ကိုငါဝါကြွား၍ အခါယ ပြည်သူ ပြည်သား
တို့သည် မနှစ်ကပင် အသင့်ရှိကြပြီဟု၊ မာကေ
ဒေါနိလူတို့အား ငါဆိုတတ်၏။ ထိုသို့ သင်တို့စေ
တနာစိတ်အားကြီးခြင်းအကြောင်းအရာသည်
အများသော သူတို့ကို နိုးဆော် ထိုက်တွန်းလေ
၃ ပြီ။- သို့သော်လည်း၊ ငါတို့သည် သင်တို့ကို ဝါ
ကြွားသော စကားသည် ဤအမှု၌ အချည်းနှီးမ
ဖြစ်စေဘဲ၊ ထိုစကား နှင့် အညီ သင် တို့ သည် အ
သင့် ရှိစေခြင်း ငှါ၊ ညီ အစ်ကို အချို့ တို့ကို ငါစေ
၄ လွှတ်၏။-သို့မဟုတ်၊မာကေဒေါနိလူတို့သည်ငါ
နှင့်အတူလာ၍သင်တို့သည် အသင့်မရှိကြသည်

ကိုတွေ့လျှင်၊သင်တို့ရှက်ကြလိမ့်မည်ဟုမဆိုဘဲ၊
ငါတို့သည် ရဲရင့်စွာ ဝါကြွား ခဲ့ပြီးသည် ကို အ
၅ ရှက်ခံရကြလိမ့်မည်။- ထိုကြောင့်၊ အထက်က
ကြားပြောသောသင်တို့၏အလှူကျေးဇူးသည်အ
နိုင်အထက်လှူရသော ဥစ္စာကဲ့သို့မဟုတ်၊ အလှူ
ကျေးဇူးကဲ့သို့အသင့်ရှိစေခြင်းငှါ၊ညီအစ်ကိုတို့
သည် သင် တို့ ဆီသို့ အရင် သွား စေ၍ ထို အလှူ
ကျေးဇူးကို အရင်ပြည့်စုံစေခြင်းငှါ၊ ငါသည်မ
တိုက်တွန်းဘဲမနေကောင်းဟုသဘောရှိ၏။
၆ အနည်းငယ်သောမျိုးစေ့ကိုကြဲသောသူသည်
စပါး အနည်းငယ်သာ ရိတ်ရမည်၊ များစွာကြဲ
သော သူသည် များ စွာ ရိတ် ရမည် ဟု မှတ် ကြ
၇ လော့။-လူ တိုင်း ကိုယ်အလိုအလျောက်လှူရ၏၊
နှစ်မြောသော စိတ်နှင့်မလှူရ၊ မလှူဘဲ မနေရဟု
စိတ်ထင်နှင့်မလှူရ။အကြောင်းမူကား၊စေတနာ
စိတ်နှင့်လှူသောသူကိုသာဘုရားသခင်နှစ်သက်
၈ တော်မူ၏။- ကျမ်းစာ လာသည်ကား၊ သူသည်
စွန့်ကြဲပြီ၊ဆင်းရဲသောသူတို့အားပေးကမ်းပြီ။-
၉ သူ၏ ဖြောင့် မတ်ခြင်း သည် အစဉ် အမြဲ တည်
တတ်၏ဟု လာသည်နှင့်အညီ၊ သင်တို့သည်အ
ရာရာ၌သုံးလောက်သော ဥစ္စာအမျိုးမျိုးအစဉ်
ရှိ၍၊ ကောင်းသောအကျင့်အမျိုးမျိုးနှင့် အထူး
သဖြင့်ပြည့်စုံမည်အကြောင်း၊ အမျိုးစုံသောမင်္ဂ
လာကျေးဇူးနှင့် အထူးသဖြင့် ပြည့်စုံစေခြင်းငှါ
၁၀ ဘုရား သခင် တတ် နိုင် တော် မူ၏။- မျိုးစေ့ကြဲ
သောသူအားမျိုးစေ့ကိုငင်၊ အစာအာဟာရကို
ငင် ပေးတော်မူသော သူသည်၊ သင်တို့အားမျိုး
စေ့ကိုပေး၍ ပွားများစေတော်မူမည်။ သင်တို့၏
ဖြောင့် မတ် ခြင်း ကို လည်း ကြွယ်ဝ စေ တော် မူ
၁၁ မည်။-ထိုသို့သင်တို့သည်စေတနာစိတ်နှင့်အမျိုး
မျိုး သော စွန့်ကြဲ ပေးကမ်းခြင်း အလို ငှါ အရာ
ရာ၌ကြွယ်ဝခြင်းရှိသည်ဖြစ်၍၊ ငါတို့အားဖြင့်
ဘုရားသခင်၏ကျေးဇူးတော်ကို ချီးမွမ်းစရာအ
၁၂ ကြောင်းရှိလိမ့်မည်။- အဘယ် သို့ နည်း ဟူမူ
ကား၊ဤသို့ကျွေးမွေးခြင်းအမှုသည်သန့်ရှင်းသူတို့
၏ဆင်းရဲခြင်းကိုမစသည်သာမက၊ဘုရားသခင်
၏ကျေးဇူးတော်ကို ချီးမွမ်းစရာ အကြောင်းအ
၁၃ များနှင့် ပြည့်စုံလျက်ရှိ၏။- သင်တို့သည် ခရစ်
တော်၏ ဧဝံဂေလိ တရား အလိုသို့ ထင် ရှား စွာ
လိုက်ခြင်း အရာကိုငင်၊ ထို သန့် ရှင်း သူ တို့ မှစ
သောလူအပေါင်းတို့အား ကြည်ညိုသော စေတ
နာစိတ်နှင့် စွန့်ကြဲပေးကမ်းခြင်းအရာကိုငင် သူ
တို့သည် စောင့်ရှောက်သော အခါ၊ ဤသို့ကျွေး
မွေးခြင်းအမှု၏ သက်သေ သက်သေကို ထောက်၍
ဘုရား သခင်၏ ကျေးဇူးတော်ကို ချီးမွမ်း တတ်
၁၄ ကြ၏။- သင်တို့၌ ထူးမြတ်သော ဘုရားသခင်၏
ကျေးဇူး တော် ကို လည်း သူတို့ သည် ထောက်
လျှင်၊သင်တို့အဖို့အလိုငှါဆုတောင်း၍၊ အလွန်
၁၅ ချစ်ခင်မြတ်နိုးခြင်းစိတ်ရှိကြ၏။- ပြော၍ မကုန်
နိုင်သော ဘုရား သခင်၏ ဆုကျေးဇူးတော်ကို
အောင်းမေ့၍ချီးမွမ်းခြင်းရှိစေသတည်း။

၁၀

၁ သင်တို့၏မျက်မှောက်၌နှိမ့်ချခြင်း၊မျက်ကွယ်
၌ သင်တို့ အမှုကိုစီရင်၍ ရဲရင့်ခြင်း ရှိသော ငါ
ပေါလုသည်၊ ခရစ်တော်၏ နူးညံ့သိမ်မွေ့ခြင်း
သည်းခံတော်မူခြင်းကို အကြောင်းပြု၍ သင်တို့ကို
တောင်းပန်ပါ၏။- ငါတို့သည် ဇာတိပကတိအ
လိုသို့လိုက်၍ကျင့်သောသူဖြစ်ကြသည်ဟုထင်
မှတ်သောသူတို့အား၊ငါကြံစည်သောရဲရင့်ခြင်း
အတိုင်း၊ သင်တို့ဆီသို့ ရောက် လာ သော အခါ
ထိုမျှလောက် ရဲရင့်ခြင်း မရှိမည်အကြောင်း ငါ
၂ တောင်းပန်ပါ၏။- အဘယ်ကြောင့်နည်း ဟူမူ
ကား၊ ငါတို့သည် လူဇာတိ၌ ကျင်လည် သော်
လည်း၊ ဇာတိပကတိအလိုသို့လိုက်၍စစ်တိုက်
၃ ကြသည်မဟုတ်။- ငါတို့စစ်တိုက်၍သုံးစွဲသော
လက်နက်ထည်ဇာတိပကတိလက်နက်မဟုတ်၊
ဘုရား သခင်၏ တန်ခိုး တော် အားဖြင့် မြို့ရိုး မြို့
၄ ပြတို့ကို ဖြိုဖျက် နိုင် သော လက်နက်ဖြစ်၏။- ထို
လက်နက်အားဖြင့် လူတို့၏ အကြံအစည် တို့ကို
ငင်၊ဘုရားသခင်ကို သိသောပညာကို ဆီးတား
သောမာန်မာနရှိသမျှတို့ကိုငင် နှိမ့်ချဖျောက်ဖျက်
၅ ၍၊ခပ်သိမ်းသောစိတ်တို့ကိုဖမ်းသွားချုပ်ထား
လျက်၊ ခရစ်တော်၏စကားကိုနားထောင်စေကြ
၆ ၏။- သင်တို့၏နားထောင်ခြင်းအမှုသည် ပြည့်စုံ
ပြီးမှ၊နားမထောင်ဘဲ နေသောသူအပေါင်းတို့ကို
ဒဏ်ပေးခြင်းငှါငါတို့သည်အသင့်ရှိကြ၏။
၇ မျက်နှာ ကိုသာ ကြည့် မှတ် ကြ သလော။ အ
ကြင်သူက၊ ငါသည်ခရစ်တော်၏လူဖြစ်သည်ဟု
မိမိ၌ စွဲလမ်းခြင်းရှိ၏၊ ထိုသူသည် ခရစ်တော်၏
လူဖြစ်သကဲ့သို့၊ငါတို့လည်းခရစ်တော်၏လူဖြစ်
ကြောင်းကို၊ တဖန်အလိုအလျောက်ဆင်ခြင်သိ
၈ မှတ်စေ။- သင်တို့ကို ပယ်ရှင်းဖျက်ဆီးခြင်း အ
လိုငှါမဟုတ်၊တည်ဆောက်ခြင်းအလိုငှါ၊သခင်
ဘုရားသည်ငါတို့၌အပ်ပေးတော်မူသောတန်ခိုး

ကိုငါသည် သာ၍ ဝါကြွားသော်လည်း၊ ရှက်
၉ ကြောက်စရာ အကြောင်းမရှိ။- ငါရေး၍ ပေး
လိုက်သော စာ အားဖြင့် သာ သင် တို့ကို ခြိမ်း
၁၀ ခြောက်သကဲ့သို့ ငါမပြုလို။- အကြောင်းမူကား၊
ထို သူ၏ စာသည် လေးလံသောစာ၊ တန်ခိုးနှင့်
ပြည့်စုံသောစာဖြစ်၏။ ကိုယ်တိုင်ရှိလျှင်မူကား၊
သတ္တိ မရှိသော သူ၊ အချည်းနှီးသော စကားကို
ပြောသော သူ ဖြစ်သည် ဟု ဆိုတတ် သော သူရှိ
၁၁ ၏။- ငါတို့သည် ကိုယ်တိုင်မရှိ၍ စာ၌ ပါသော
စကား အားဖြင့် ဖြစ် သကဲ့သို့၊ ကိုယ် တိုင် မျက်
မှောက်ရှိသောအခါ အမှုအားဖြင့် ဖြစ်လိမ့်မည်
ဟု၊ထိုသူသည်ဆင်ခြင်သိမှတ်စေ။
၁၂ ကိုယ်ကိုကိုယ်ချီးမွမ်းသောသူတို့နှင့်ရေတွက်
ဝင်ခြင်းကိုငှင်၊ ပြိုင်နှိုင်းခြင်းကိုငှင် ငါတို့မပြုဝံ့။
ထိုသူ တို့ သည် အချင်းချင်း တ ယောက် နှင့် တ
ယောက် နှိုင်းနှိုင်း ခြင်း၊ ပြိုင်နှိုင်း ခြင်းကို ပြု၍
၁၃ ပညာမဲ့ဖြစ်ကြ၏။- ထိုမှတပါး၊ကိုယ်ငန်းကိုယ်
တာကို လွန်ကျူး၍ ပြုသော အမှု အရာကို ငါတို့
ဝါကြွား ခြင်း မရှိဝံ့၊ ဘုရားသခင် ဝေငှ တော်မူ
သော အငန်းအတာ၏ အတိုင်းအရှည် အတွင်း
တွင်ပြုသောအရာကိုသာဝါကြွားခြင်းရှိဝံ့၏။ထို
အတိုင်းအရှည်သည်သင်တို့တိုင်အောင်ပင်မှီသ
၁၄ တည်း။-သင်တို့တိုင်အောင်မမှီလျှင်၊ငါတို့သည်
လွန်ကျူး၍ ပြုကြသည် မ ဟုတ်။ အကြောင်းမူ
ကား၊ခရစ်တော်၏ဧဝံဂေလိတရားကိုဟောပြော
၁၅ ၍၊ သင်တို့ရှိရာသို့တိုင်အောင်ရောက်ကြပြီ။- ငါ
၁၆ တို့သည်ကိုယ်ငန်းကိုယ်တာကိုလွန်ကျူး၍၊သူ
တပါး အလုပ်ထဲသို့ ဝင်ခြင်း ကြောင့် ဝါကြွား
ဝေ့ရှိကြသည်မဟုတ်။ ထိုသို့သူငန်း သူတာ အ
တွင်းတွင်ပျှင်ဆင်ပြီးသောအမှုအရာကိုဝါကြွား
ခြင်းမရှိဘဲ၊ သင်တို့ပြည်တဖက်သို့ကူး၍ ဧဝံဂေ
လိတရားကို ဟောပြော ရသော အခွင့် ရှိစေခြင်း
ငှါ၊သင်တို့၏ယုံကြည်ခြင်းပါရမီရင့်ပြီးမှ၊ငါတို့၏
အငန်း အတာသည် အလွန် ကျယ်ဝန်းမည်ဟု
၁၇ မျှော်လင့်ခြင်းရှိ၏။- သို့ဖြစ်၍၊ဝါကြွားသောသူ
မည်သည်ကား၊သခင်ဘုရား၌သာဝါကြွားစေ။-
၁၈ အကြောင်းမူကား၊ ကိုယ်ကိုကိုယ်ချီးမွမ်းသော
သူသည်ဝန်ခံတော်မူသောသူဖြစ်သည်မဟုတ်။
သခင်ဘုရားချီးမွမ်းတော်မူခြင်းကို ခံရသောသူ
သာလျှင်၊ဝန်ခံတော်မူသောသူဖြစ်သတည်း။

၁၁

၁ ငါ မိုက်မဲသော အဖြစ်ကို သင် တို့သည် ခဏ
သည်းခံစေခြင်းငှါငါအလိုရှိ၏။ခဏသည်းခံကြ
၂ ပါလော့။- အကြောင်းမူကား၊ ငါသည်သင်တို့
ကိုသီလနှင့် ပြည့်စုံသော သတို့သမီးကညာကဲ့သို့
ခရစ်တော်အားဆက်အပ့်သောငှါ၊သင်တို့ကိုလင်
တဦးနှင့်ထိမ်းမြားဆောင်နှင်းပြီးသောကြောင့်
ဘုရားသခင်၏ အလိုတော်အတိုင်း စိုးရိမ်သော
စိတ်နှင့် သင်တို့ကို စောင့်ရှောက် လျက် နေ၏။-
၃ မြွေသည် မိမိပရိယာယ်အားဖြင့်၊ ဧဝကို လှည့်
စားသကဲ့သို့ သင်တို့သည် စိတ်ဖောက်ပြန်ခြင်း ... 
၍၊ခရစ်တော်ကိုအကြွင်းမဲ့ချစ်သောစိတ်ပျောက်
၄ မည်ဟုစိုးရိမ်ခြင်းရှိ၏။- သင်တို့ရှိရာသို့ရောက်
လာသောသူသည်ငါတို့မဟောမပြောသေးသော
ယေရှု တပါး ကို ဟော ပြော သော် ငှင်၊ သင်တို့
သည် မခံရသေးသော ဝိညာဉ်တော်တပါးကိုခံ
ရသော်ငှင်၊ နား မထောင်သေး သော ဧဝံဂေလိ
တရား စကားကို နားထောင်သော်ငှင်၊ ထိုသူကို
သည်းခံကောင်း၏။
၅ ငါသည်အကြီးဆုံးသောတမန်တော်အောက်
၆ အလျှင်းမယုတ်သည်ကိုငါသဘောရှိ၏။-စကား
အားဖြင့် လူရိုင်းဟုတ်သော်လည်း၊ ပညာအား
ဖြင့်လူရိုင်းမဟုတ်။ သင်တို့တွင်အရာရာ၌ ငါတို့
သည် အစည်ကိုယ်ကို ကိုယ်ထင်ရှားစွာ ပြကြ
၇ ပြီ။-သင်တို့ကိုချီးမြှောက်ခြင်းငှါ၊ကိုယ်ကိုကိုယ်
နှိမ့်ချလျက်၊ကျေးဇူးဆပ်ခြင်းကိုမခံဘဲ၊သင်တို့
အားဘုရားသခင်၏ဧဝံဂေလိတရားကိုဟောပြော
၈ သည်အရာမှာ ငါသည် အပြစ်ရှိသလော။- သင်
တို့အမှုကို ဆောင်ရွက်မည်အကြောင်း၊ အခြား
သောအသင်းတော်များ ပေးသောစရိတ်ကိုငါခံ
၍၊ သူတို့ကိုလုယူရာသို့ရောက်လေပြီတကား။-
၉ သင်တို့နှင့် အတူရှိနေ၍ တစုံတခုကိုလိုသောအ
ခါအဘယ်သူကိုမျှ ငါမနှောင့်ရှက်။ အကြောင်း
မူကား၊ မာကေဒေါနိပြည်ကလာသောညီအစ်ကို
တို့သည် ငါလိုသမျှကို ပေးကြ၏။ သင်တို့ကို အ
လျှင်းမနှောင့်ရှက်ဘဲ သတိနှင့်နေခဲ့ပြီ။ နောင်၌
၁၀ လည်းသတိနှင့်နေဦးမည်။- ခရစ်တော်၏သစ္စာ
တရားသည်ငါ၌ရှိသည်ဖြစ်၍၊ အခါယပြည်များ
တို့၌ ဤသို့ငါဝါကြွားသည်အမှုကိုအဘယ်သူမျှ
၁၁ မဆီးတားရ။- အဘယ်ကြောင့်နည်း၊သင်တို့ကို
ငါမချစ်သလော။ဘုရားသခင်သိတော်မူ၏။
၁၂ အခွင့်ရလိုသောသူတို့သည်အခွင့်မရစေခြင်း
ငှါငှင်၊ ဝါကြွားခြင်းအရာ၌သူတို့သည်ငါကဲ့သို့
ထင်ရှားစွာ ဖြစ်စေခြင်းငှါငှင်၊ ငါပြုခဲ့ပြီးသည်

၁၃ အတိုင်း၊ အစည်ပြုဦးမည်။- အကြောင်းမူကား၊
ထိုသူတို့သည်မိစ္ဆာတမန်တော်ဖြစ်ကြ၏၊ ခရစ်
တော်၏တမန် ဖြစ် ရောင်ဆောင် ၍၊ လှည့် ဖြား
၁၄ တတ်သော အမှုစောင့်ဖြစ်ကြ၏။- ဤအမှုသည်
အံ့ဩဖွယ်ဖြစ်သည်မဟုတ်။စာတန်ပင်လျှင်
လင်းသောကောင်းကင်တမန် ဖြစ်ရောင်ဆောင်
၁၅ တတ်၏။- သို့ဖြစ်၍၊ သူ၏ဆရာတို့သည်လည်း
ဖြောင့်မတ်ခြင်းတရားကို ဟောသော ဆရာ ဖြစ်
ရောင်ဆောင်လျှင်၊ အဘယ်ဆိုဘွယ်ရှိသနည်း။
သူတို့သည် ကိုယ် ကျင့်သော အကျင့် အတိုင်း
၁၆ နောက်ဆုံး၌အကျိုးအပြစ်ကိုခံရကြလတံ့။- တ
ဖန်ငါဆိုသည်ကား၊ ငါ့ကိုသူရူးဖြစ်သည်ဟု အ
ဘယ်သူမျှမထင်စေနှင့်။ သို့မဟုတ်၊ ငါဝါကြွား
စရာအနည်းငယ်ရှိစေခြင်းငှါ ငါ့ကို သူရူး
၁၇ ကဲ့သို့မှတ်၍ သည်းခံကြသော့။- ဤသို့ငါပြော
သောစကားမှာ၊ သခင်ဘုရား၏နည်းတူ ငါပြော
သည်မဟုတ်။သူရူးကဲ့သို့ရဲရင့်စွာဝါကြွားလျက်
ပြောဆို၏။
၁၈ လူများတို့သည် လောကီ အခြင်း အရာ၌ ဝါ
ကြွားသောကြောင့်ငါသည်လည်းဝါကြွားရ၏။-
၁၉ သင်တို့ သည် လိမ္မာသောသူ ဖြစ်သောကြောင့်၊
၂၀ သူရူးတို့ကို စေတနာစိတ်နှင့်သည်းခံကြ၏။- သူ
တပါးသည်သင်တို့ကိုကျွန်ခံစေခြင်း၊ ရောင်း၍
စားခြင်း၊ ဥစ္စာကိုလုယူခြင်း၊ ရန်တွေ့ခြင်း၊ ပါး
ပုတ်ခြင်းကို ပြုလျှင်၊ သင်တို့သည် သည်း ခံကြ
၂၁ ၏။- ငါတို့သည်အစွမ်းသတ္တိမရှိဟုကဲ့ရဲ့ခြင်းကို
အမှတ်ပြု၍ငါပြော၏။အကြင်အရာကိုသူတပါး
ရှိဝံ့၍ရဲရင့်၏၊ထိုအရာကိုငါမှိုဝံ့၍ရဲရင့်ခြင်းရှိ၏
၂၂ ဟု၊ သူရူးကဲ့သို့ငါဆို၏။- သူတို့သည် ဟေဗြဲသူ
ဖြစ်ကြ သလော၊ ငါသည်လည်း ဖြစ်၏။ သူတို့
သည် ဣသရေလလူ ဖြစ်ကြသလော၊ ငါသည်
သည်းဖြစ်၏။သူတို့သည်အာဗြဟံအမျိုးဖြစ်ကြ
၂၃ သလော၊ ငါသည်လည်း ဖြစ်၏။- သူတို့သည်
ခရစ်တော်၏ ဓမ္မဆရာဖြစ်ကြသလော၊ ငါသည်
အထူးသဖြင့် ဖြစ်၏ဟု၊ သူရူးကဲ့သို့ ဆိုရ၏။ ပင်
ပန်းစွာအမှုကို အထူးသဖြင့် ဆောင်ရွက်သော
သူ၊ရိုက်ပုတ်ခြင်း၊ထောင်ထဲ၌လှောင်ထားခြင်း
ကို အထူးသဖြင့် ခံရသောသူ၊ သေဘေးနှင့် အ
၂၄ ကြိမ်ကြိမ် တွေ့ကြုံသော သူ ဖြစ်၏။- ငါး ကြိမ်
မြောက်အောင်၊ ယုဒလူတို့လက်တွင် ဒါဏ်ချက်
၂၅ လေးဆယ် တခု ယုတ် ငါ ခံခဲ့ ရ ပြီ။- သုံး ကြိမ်
မြောက်အောင်ကြိမ်လုံးနှင့်ရိုက်ခြင်းကိုငှင်၊ တ
ကြိမ် ခဲနှင့် ပြစ် ခြင်း ကို ငှင် ငါ ခံရပြီ။ သုံး ကြိမ်
မြောက်အောင် သင်္ဘော ပျက်ခြင်းကို ခံရပြီ။ တ
နေ့နှင့်တညည့်ပတ်လုံးပင်လယ်ထဲမှာနေရပြီ။-
၂၆ အကြိမ်ကြိမ် ဒေသစာရီ လှည့် လည် ပြီ။ မြစ်ကို
ကူးသောဘေး၊ထားပြတိုက်သောဘေး၊ အမျိုး
သားချင်း ပြု သော ဘေး၊ တပါး အ မျိုး သား ပြု
သောဘေး၊ မြို့ရွာ၌ရောက်သောဘေး၊ တော၌
ရောက်သောဘေး၊ပင်လယ်ဘေး၊ညီအစ်ကိုဖြစ်
ရောင်ဆောင်သော သူတို့ ပြုသောဘေး၊ ဤဘေး
၂၇ များကိုငါတွေ့ခဲ့ပြီ။-ပင်ပန်းစွာအမှုဆောင်ရွက်
ခြင်း၊ အကြိမ်များစွာ မအိပ်ဘဲ စောင့် နေခြင်း၊
မွတ်သိပ်ခြင်း၊ ရေငတ်ခြင်း၊ အကြိမ်ကြိမ်အစာ
ရှောင်ခြင်း၊ အခုမ်းအအေးခံရခြင်း၊ အဝတ်အ
ချည်းစည်းရှိခြင်း၊ဤဆင်းရဲခြင်းများကိုငါခံခဲ့ပြီ။
၂၈ ထိုအပမှုမှတပါး၊ အသင်းတော်အပေါင်းတို့
ကိုစိုးရိမ်သောစိတ်နှင့်ကြည့်ရှုပြုစု၍၊ နေ့တိုင်း
၂၉ အစည်နှောင့်ရှက်ခြင်းကိုငါခံရ၏။- ငါမနွမ်းရိ
ဘဲအဘယ်သူနွမ်းရိသနည်း။ ငါသည် စိတ်မပူ
၃၀ ပန်ဘဲအဘယ်သူဖောက်ပြန်သနည်း။- ငါသည်
မဝါကြွားဘဲမနေရသည်မှန်လျှင်၊ ကိုယ်နွမ်းရိ
သော အဖြစ်ကိုသာ အ ကြောင်း ပြု၍ ဝါကြွား
၃၁ မည်။- ငါသည် မုသာ မပြောသည်ကို ထာဝရ
မင်္ဂလာရှိတော်မူသောငါတို့သခင် ယေရှုခရစ်၏
ခမည်းတော်ဘုရားသခင်သိတော်မူ၏။
၃၂ ဒမာသက်မြို့၌အရေတမင်းကြီးခန့်ထားသော
မြို့ဝန်သည် ငါ့ကိုဖမ်းဆီးခြင်းငှါအလိုရှိ၍၊ ဒမာ
၃၃ သက်မြို့ကို စောင့် စည် တွင်၊- တ ပည့် တော်တို့
သည် ငါ့ကို တောင်း၌ ထည့် ပြီး လျှင်၊ ပြ တင်း
ပေါက်မှထုတ်၍ မြို့ရိုးအပေါ်က လျှော့ချသဖြင့်
ထိုမြို့ဝန်လက်မှငါပြေး၍လွတ်ရ၏။

၁၂

၁ ငါသည်ဝါကြွားခြင်းကိုမပြုသင့်လျှင်၊ သခင်
ဘုရားပြတော်မူသော၊ ထူးဆန်းသောရူပါရုံနှင့်
၂ ဗျာဒိတ်တော် များကို တဖန် ပြောဦး မည်။- တ
ဆယ်လေးနှစ်အထက်က၊ ခရစ်တော်၏တပည့်
ဖြစ်သောလူတယောက်ကို တတိယကောင်းကင်
သို့တိုင်အောင် ချီဆောင်သည်အကြောင်းကို ငါ
သိ၏။ထိုအခါသူ၌ကိုယ်ခန္ဓာပါသည်မပါသည်
၃ ကိုငါမသိ။ဘုရားသခင်သိတော်မူ၏။ ထိုသူသည်
၄ ပရဒိသုဘုံသို့ ချီဆောင်ခြင်းကိုခံရ၍၊ လူမပြော
အပ်၊ မပြောနိုင်သော စကားကို ကြား သည် အ
ကြောင်း၊ကိုငါသိ၏။ထိုအခါကိုယ်ခန္ဓာပါသည်

မပါသည်ကိုငါမသိ၊ ဘုရားသခင်သိတော်မူ၏။-
၅ ထိုသို့သောသူကိုဝါကြွားမည်၊ နှမ်းရိအားနည်း
၆ ခြင်းမှတပါးကိုယ်ဂုဏ်ကိုမဝါကြွား။-ဝါကြွား
ခြင်း၌ အလိုရှိလျှင်လည်း၊ သူရူးဖြစ်သည်မ
ဟုတ်၊ အကြောင်းမူကား၊ ငါသည်ဟုတ်မှန်စွာ
ပြောတတ်၏၊ တစုံတယောက်သောသူသည် ငါ
ကိုမြင်သည်ထက်၊ ငါ့သိတင်းကိုကြားသည်
ထက်၊ ငါ့ကိုသာ၍ မထင်စေခြင်း၌ ငါမပြောဘဲ
၇ နေ၏။- ငါခံရသော ဗျာဒိတ်တော်အလွန် ထူး
မြတ်၍ ငါသည် ထောင်လွှားသော စိတ်မရှိစေ
ခြင်း၌၊ ငါ့ကိုဒါဏ်ခတ်သော စာတန်၏ တမန်
တည်းဟူသော၊ ငါ့ကိုယ်၌ စူးသောဆူးကိုပေး
၈ တော်မူ၏။- ထိုဆူးငြိခြင်းနှင့် ကင်းလွတ်မည်
အကြောင်း၊ သုံးကြိမ် မြောက်အောင် သခင်
ဘုရားကို ငါဆုတောင်း၍ အသနားတော်ခံပြီး
၉ လျှင်၊- ငါ့ကျေးဇူးသည်သင့်အဖို့လောက်ပေ၏။
ငါ့တန်ခိုးသည် အားနည်းခြင်းအဖြစ်၌ စုံလင်
တတ်သည်ဟု မိန့်တော်မူ၏။ ထိုကြောင့်၊ ခရစ်
တော်၏တန်ခိုးသည် ငါ့အပေါ်၌ကျိန်းဝပ်မည်
အကြောင်း၊ ငါ့ကိုယ်၌ အားနည်းခြင်းအဖြစ်ကို
ဝမ်းမြောက်သောစိတ်နှင့်ဝါကြွားခြင်း၌သာ၍
၁၀ ငါအလိုရှိ၏။- သို့ဖြစ်၍၊ ခရစ်တော်ကြောင့် ခံရ
သော အားနည်းခြင်း၊ ကဲ့ရဲ့ခြင်း၊ ဆင်းရဲခြင်း၊
ညှဉ်းဆဲနှိပ်စက်ခြင်း၊ ကြပ်တည်းစွာသောဒုက္ခ
ဝေဒနာခံခြင်းတို့ကိုငါနှစ်သက်၏။ အကြောင်းမူ
ကား၊ ငါသည်အားနည်းသောအခါ တန်ခိုးနှင့်
၁၁ ပြည့်စုံလျက်ရှိ၏။- ငါသည်ဝါကြွားတတ်သော
သူမှူးဖြစ်သလော။ ထိုသို့ဖြစ်လျှင်၊ သင်တို့သည်
ငါ့ကိုအနိုင်အထက်ဖြစ်စေကြပြီ။ အဘယ်သို့နည်း
ဟူမူကား၊ သင်တို့ချီးမွမ်းခြင်းကိုငါခံသင့်၏။ ငါ
သည်အာမျှမဟုတ်သော်လည်း၊ အကြီးဆုံး
သော တမန်တော်အောက်အလျှင်းမယုတ်မ
၁၂ ညံ့။-အကယ်စင်စစ်သည်းခံခြင်းနှင့်တကွနိမိတ်
လက္ခဏာအံ့ဩဖွယ်သောအမှု၊ ထူးဆန်းသော
တန်ခိုးများအားဖြင့် တမန်တော်၏ လက္ခဏာ
၁၃ တို့ကို သင်တို့တွင် ထင်ရှားစွာပြပြီ။- ငါသည်
သင်တို့ကိုမနှောင့်ရှက်သော အရာတခုကိုထား
လျှင်၊ သင်တို့သည် အခြားသော အသင်းတော်
ထက်အဘယ်သို့ယုတ်ညံ့သနည်း။ ထိုသို့ငါပြစ်
၁၄ မှားသောအပြစ်ကိုသည်းခံကြလော့။- ဤတတိ
ယအကြိမ်သင်တို့ဆီသို့ သွားခြင်း၌ငါသည်အ
သင့်ရှိ၏။ သင်တို့ကိုနှောင့်ရှက်မည်ဟု အကြံမ
ရှိ။သင်တို့ဥစ္စာကိုငါရှာသည်မဟုတ်၊သင်တို့ကို
သာရှာ၏။ သားသမီးတို့သည် မိဘအတွက်ဥစ္စာ
ကိုဆည်းဖူးရသည်မဟုတ်၊ မိဘတို့သည်သား
၁၅ သမီးတို့အတွက်ဆည်းဖူးရ၏။- ငါသည် သင်တို့
ကို ချစ်ခြင်းမေတ္တာစိတ် တိုးပွားသည်အတိုင်း
သင်တို့သည် ငါ့ကိုချစ်ခြင်းမေတ္တာစိတ်ဆုတ်ယုတ်
သော်လည်း၊သင်တို့စိတ်ဝိညာဉ်၏အကျိုးအလို
ငှါငါသည်ကိုယ်ဥစ္စာကိုငှင်၊ ကိုယ်ကိုငှင်၊ ကုန်
စေခြင်းငှါအလွန်စေတနာရှိ၏။
၁၆ သင်တို့ကို ငါမနှောင့်ရှက်သည် မှန်စေတော့။
သို့သော်လည်း၊လိမ္မာသောသူဖြစ်၍ပရိယာယ်
၁၇ အားဖြင့်သင်တို့ကိုဖမ်းဆီးပြီဟုဆိုလျှင်၊- တစုံ
တယောက်သောသူကိုသင်တို့ဆီသို့စေလွှတ်၍၊
သင်တို့၏ ဥစ္စာကို ပရိယာယ် အားဖြင့် ငါယူသ
၁၈ လော။- တိတုသည် သင်တို့ ဆီသို့ သွားမည်အ
ကြောင်း ငါ တောင်းပန်၍၊ သူနှင့်တကွ အခြား
သော ညီတယောက်ကို စေလွှတ်၏။ တိတုသည်
ပရိယာယ် အားဖြင့် သင်တို့၏ ဥစ္စာကို ယူသ
လော၊ ငါတို့သည် စိတ်သဘောချင်းတူ၍ ကျင့်
ကြသည်မဟုတ်လော၊ တထမ်းတည်းလိုက်ကြ
သည်မဟုတ်လော။
၁၉ တဖန်တုံ၊ ငါတို့သည် သင်တို့ရှေ့၌ ကိုယ်အ
ပြစ်ဖြေရာ စကားကို ပြောသည်ဟု ထင်ကြသ
လော၊ခရစ်တော်ကိုထောက်၍ ဘုရားသခင်ရှေ့
၌ ငါတို့ပြောကြ၏။ ချစ်သူတို့၊ ငါတို့ ပြုသမျှ မှာ
သင်တို့ကိုတည်ဆောက်ခြင်းအလို့ငှါ ပြုကြ၏။-
၂၀ ငါရောက်လာသော အခါ၊ သင်တို့ သည် ငါနှစ်
သက်သော သူမဖြစ်၊ ငါသည်လည်း သင်တို့မ
နှစ်သက်သောသူဖြစ်မည်ဟူ၍၎င်း၊သင်တို့၌ရန်
တွေ့ခြင်း၊ဂုဏ်ပြိုင်ခြင်း၊ အမျက်ထွက်ခြင်း၊ငြင်း
ခုံခြင်း၊သူ့အသရေကို ရှုတ်ချခြင်း၊ ချော့စားခြင်း၊
မာနထောင်လွှားခြင်း၊ အချင်းချင်းအမှုလုပ်ခြင်း
၂၁ ဖြစ်မည်ဟူ၍၎င်း၊- အထက်က ပြစ်မှား၍ ညစ်
ညူးစွာကျင့်ခြင်း၊မတရားသောမေထုန်၌မှီဝဲခြင်း၊
ကိလေသာလွန်ကျူးခြင်းအမှုတို့ကိုပြုမိ၍၊ ယခု
တိုင်အောင် နောင်တမရသောသူအများကြောင့်
ငါစိတ်မသာညည်းတွားရသဖြင့်၊ သင်တို့ ရှေ့၌
ဘုရားသခင်သည် ငါ့ကို နှိမ့်ချတော်မူမည်ဟူ၍
ငှင်စိုးရိမ်ခြင်းရှိ၏။

၁၃

၁ ဤတတိယအကြိမ်တွင် သင်တို့ဆီသို့ ငါလာ
မည်ဖြစ်၍၊ သက်သေခံ နှစ်ဦး သုံးဦး အားဖြင့်

၂ စောအးရှိသမျှတို့သည်တည်ရလိမ့်မည်။- တဖန်
ငါရောက်လာလျှင် သင်တို့ကိုမသနားရထု၊ ပြစ်
မှားသော သူမှစ၍ ကြွင်းသော သူအပေါင်း တို့
အားအထက်ကငါပြောသည်သာမက၊ ယခုပင်
သင်တို့နှင့်အတူ မရှိသော်လည်း၊ တဖန်ရှိဘိသ
၃ ကဲ့သို့ ငါ ပြော နှင့်၏။- သင် တို့ တွင် အား နည်း
တော်မမူ၊ အား ကြီး တော် မူသော ခရစ် တော်
သည် ငါ၌ ဗျာဒိတ် ပြတော် မူခြင်း သက်သေ ကို
သင်တို့သည် ရှာသော့ကြောင့်၊ ငါ ရောက် လာ
၄ သောအခါ မသနားရ။- အကြောင်းမူကား၊ ထို
ခရစ် တော် သည် အား နည်း ခြင်းနှင့် လက်ဝါး
ကပ်တိုင်မှာအသေခံသော်လည်း၊ဘုရားသခင်၏
တန်ခိုး တော်နှင့် အ သက် ရှင် တော် မူ၏။ ငါတို့
သည်လည်း ခရစ် တော်၏ နည်းတူ အား နည်း
သော်လည်း၊ သင်တို့တွင်ပြသောဘုရားသခင်၏
တန်ခိုး တော်အားဖြင့် ခရစ်တော် နှင့် အတူ အ
၅ သက်ရှင်ခြင်းရှိကြလိမ့်မည်။- သင်တို့သည်ယုံ
ကြည်ခြင်း၌တည်သလော၊ မတည်လောဟုကိုယ်
ကို ကိုယ် စစ်ကြော ကြလော့။ ကိုယ်ကို ကိုယ် စုံ
စမ်းကြလော့။ အစစ်မခံနိုင်သောသူ မမှန်လျှင်၊
ယေရှုခရစ်သည် သင်တို့၌တည်တော်မူသည်ဟု
၆ ကိုယ်အကြောင်းကိုကိုယ်မသိကြသလော။-ငါ
တို့သည်အစစ်ခံနိုင်သောသူဖြစ်သည်ကိုသင်တို့
သိကြလိမ့်မည်ဟု ငါထင်မှတ် မျှော်လင့်ခြင်း ရှိ
၇ ၏။- ငါတို့သည်အစစ်ခံနိုင်ကြောင်းကို ထင်ရှား
စေခြင်းငှါငါအလိုရှိသည်မဟုတ်။အစစ်မခံနိုင်
သောသူကဲ့သို့ ထင် သော် လည်း၊ သင် တို့ သည်
ကောင်းမွန်စွာ ကျင့်စေခြင်းငှါ၊ မကောင်းသော
အကျင့်တစုံတခုကိုမျှမကျင့်မည်အကြောင်း၊ငါ
၈ သည်ဘုရားသခင်ကိုဆုတောင်းပဌနာပြု၏။- ငါ
တို့သည် သမ္မာ တရား ကို ဆီး တား ခြင်းငှါ အ
၉ လျှင်းမတတ်နိုင်ကြ။- သမ္မာတရားအကျိုး၌နေ၍
သာတတ်နိုင်ကြ၏။ ငါတို့သည်အားနည်း၍သင်
တို့သည် အားကြီးသောအခါ၊ ငါတို့သည် ဝမ်း
မြောက်ခြင်းရှိကြ၏။ သင်တို့သည် စုံလင်မည်အ
၁၀ ကြောင်းကိုသာအလိုရှိကြ၏။- ထိုကြောင့်၊ ပယ်
ရှင်းဖျက်ဆီးခြင်းအလိုငှါမဟုတ်၊ တည်ဆောက်
ခြင်းအလိုငှါ၊ သခင်ဘုရားသည် ငါ၌ အပ်ပေး
တော်မူသော တန်ခိုး ရှိသည် အတိုင်း ငါ သည်
ရောက်လာသောအခါ ပြင်းစွာသော ဓါဏ်ကိုမ
ပေးလို၍၊ ယခုပင်သင်တို့နှင့် ကွာဝေးသေးသည်
ကာလ ဤသို့ငါရေးလိုက်၏။
၁၁ ကြွင်းသေးသောစကားဟူမူကား၊ ညီအစ်ကို
တို့၊ သင်တို့၌မင်္ဂလာရှိပါစေသော။ စုံလင်ခြင်း၊
သက်သာ ဝမ်းမြောက်ခြင်းရှိကြလော့။ စိတ်တ
ညီတညွတ်တည်း ဖြစ်၍၊ အချင်းချင်း အသင့်အ
တင့် နေကြလော့။ သို့ဖြစ်၍၊ မေတ္တာ ကိုဒင်၊ အ
သင့်အတင့် နေခြင်း ချမ်းသာကို ဒင် ပေးတော်မူ
သောဘုရားသခင်သည်သင်တို့နှင့်အတူ ရှိတော်
၁၂ မူလတံ့။- အချင်းချင်းတယောက်ကိုတယောက်
သန့်ရှင်းသောနမ်းခြင်းနှင့် နှုတ်ဆက်ကြလော့။-
၁၃ သန့်ရှင်းသူ အပေါင်း တို့သည် သင်တို့ကို နှုတ်
၁၄ ဆက်ကြ၏။- သခင်ယေရှုခရစ်၏ကျေးဇူးတော်
ဒင်၊ ဘုရားသခင်၏ မေတ္တာတော်ဒင်၊ သန့်ရှင်း
သောဝိညာဉ်တော်၏မိဿဟာယတော်ဒင်၊ သင်
တို့အပေါင်း၌ရှိစေသတည်း။ အာမင်။

ကောရိန္သုပြုဩဝါဒစာဒုတိယစောင်ပြီး၏။

# ဂလာတိဩဝါဒစာ။

## GALATIANS.

၁

၁ လူနှင့်မစပ်ဆိုင်၊လူ၏အခွင့်မရှိဘဲလျက်၊ယေ
ရှုခရစ်၏အခွင့်နှင့်၎င်၊ ထိုသခင်ကို သေခြင်းမှ
ထမြောက်စေတော်မူသော ခမည်းတော် ဘုရား
သခင်၏ အခွင့်နှင့်၎င်၊ တမန်တော် ဖြစ်သောငါ
၂ ပေါလုမှစ၍၊-ငါ့ထံမှာရှိသောညီအစ်ကိုအပေါင်း
တို့သည် ဂလာတိပြည်၌ ရှိသောအသင်းတော်
၃ များကိုကြားလိုက်ပါ၏။- သခင်ယေရှုခရစ်နှင့်
ခမည်းတော်ဘုရား ထံတော်က ကျေးဇူးတော်
နှင့်ငြိမ်သက်ခြင်းသည်သင်တို့၌ရှိပါစေသော။-
၄ ထိုသခင်သည် ငါတို့အဘတည်းဟူသော ဘုရား
သခင်၏ အလိုတော်နှင့်အညီ၊ ဆိုးညစ်သော ဤ
ပစ္စုပ္ပန်ဘဝမှ ငါတို့ကို ကယ်နှုတ်ခြင်းငှါ၊ ငါ
တို့အပြစ်ကြောင့်ကိုယ်ကိုကိုယ်အပ်ပေးတော်မူ
၅ ၏။- ထို ဘုရားသခင် သည် ကမ္ဘာအဆက်ဆက်
ဘုန်းကြီးတော်မူစေသတည်း။ အာမင်။
၆ ခရစ်တော်၏ကျေးဇူးအားဖြင့်သင်တို့ကိုခေါ်
တော်မူသောသူနှင့် ဤမျှလောက် မြန်မြန် ခွာ၍
သင်တို့သည်အခြားသောဧဝံဂေလိတရားကိုခံယူ
၇ ကြသောကြောင့်ငါသည်အံ့ဩခြင်းရှိ၏။- ထိုဧ
ဝံဂေလိတရားသည်ဧဝံဂေလိတရားမဟုတ်။သင်
တို့ကိုနှောင့်ရှက်၍ ခရစ်တော်၏ ဧဝံဂေလိတရား
၈ ကို မှောက်လှန်ချင်သော သူအချို့ ရှိကြ၏။- သို့
သော်လည်း၊ သင်တို့အား ငါတို့ဟောပြောသော
ဧဝံဂေလိတရားမှတပါး အခြားသော ဧဝံဂေလိ
တရားကိုငါတို့ သည်ဟောပြောသော်၎င်၊ကောင်း
ကင် ဘုံ မှ လာသော ကောင်းကင် တမန် ဟော
ပြောသော်၎င်၊ ဟောပြောသော သူသည် ကျိန်
၉ တော်မူခြင်းကိုခံစေ။- တဖန်တုံ၊သင်တို့ခံယူပြီး
သော ဧဝံဂေလိ တရားမှတပါး အခြားသော ဧဝံ
ဂေလိတရားကို တစုံတယောက်သောသူ ဟော
ပြောလျှင်၊ ထိုသူသည်ကျိန်တော်မူခြင်းကိုခံစေ
ဟု၊ ငါတို့ ဆိုခဲ့ပြီးသည်အတိုင်း ယခု ငါထပ်၍
၁၀ ဆိုသေး၏။- အကြောင်းမူကား၊ ယခုတွင် ငါ
သည်လူ၏အလိုသို့လိုက်သလော၊ ဘုရားသခင်
၏အလိုတော်သို့လိုက်သလော၊ လူတို့စိတ်ကိုနှူး
ညွတ်စေခြင်းငှါ ရှာကြံသလော၊ လူတို့ စိတ်ကို
နှူးညွတ်စေခြင်းငှါရှာကြံသေးလျှင်၊ခရစ်တော်
၏အစေခံကျွန်မဟုတ်ပြီ။
၁၁ ညီအစ်ကိုတို့၊ ငါ ဟောပြောသော ဧဝံဂေလိ
၁၂ တရားသည်လူတို့၏တရားမဟုတ်။- လူထံမှာငါ
ခံရသည် မ ဟုတ်။ ယေရှုခရစ် ၏ ဗျာဒိတ်တော်
မှတပါးအခြားသောဥပဒေသကိုငါမခံသည်အ
၁၃ ကြောင်းကိုသင်တို့အားငါကြားလိုက်ရ၏။- အ
ဘယ်သို့နည်းဟူမူကား၊ အထက်က ယုဒဘာ
သာ၌နေ၍ငါကျင့်သောအကျင့်တည်းဟူသော၊
ဘုရားသခင်၏အသင်းတော်ကိုအတိုင်းထက်အ
၁၄ လွန် ညှဉ်းဆဲ ဖျက်ဆီးကြောင်း ကို၎င်၊- ဘိုး
ဘေး တို့၏ လက်မှ ငါ ခံရသော နည်း ဥပဒေ သ
ဘက်၌အထူးသဖြင့်စိတ်အားသန်လျက်၊ ငါ၏
လူမျိုးထဲတွင်ငယ်တူချင်းအများတို့ထက်ယုဒ
ဘာသာကို ကျင့်လည်လေ့ကျက်ကြောင်းကို၎င်
၁၅ သင်တို့ကြားသိရကြပြီ။- သို့သော်လည်း၊ ငါ့ကို
အမိဝမ်းထဲကပင် ရွေးချယ်ခွဲထား၍ ကျေးဇူး
တော်အားဖြင့် ခေါ်တော်မူသော ဘုရားသခင်
၁၆ သည်၊- သားတော်၏ဧဝံဂေလိတရားကို တပါး
အမျိုးသားတို့၌ ဟောပြောစေမည်အကြောင်း၊
မိမိအလိုတော်နှင့်အညီ သားတော်ကို ငါ့အားပြ
တော်မူသောအခါ၊ ငါသည်အသွေးအသားနှင့်
၁၇ တိုင်ပင်ခြင်းကို မပြု၊- ငါ့ရှေ့၌ တမန်တော်ဖြစ်
နှင့်သောသူတို့ရှိရာ ယေရုရှလင်မြို့သို့လည်း မ
သွား၊ အာရပ်ပြည်သို့ ချက်ချင်းသွား၍ တဖန်
၁၈ ဒမာသက်မြို့သို့ ပြန်လေ၏။- ထိုနောက် သုံးနှစ်
လွန်ပြီးမှ ပေတရုကို အကျွမ်းဝင်လိုသောငှါ၊
ယေရုရှလင်မြို့သို့ သွား၍သူနှင့်အတူ တဆယ်
၁၉ ငါးရက်နေ၏။- သခင်ဘုရား၏ ညီတော်
ယာကုပ်မှတပါး အခြားသော တမန်တော် တ
၂၀ ယောက်ကိုမှ ငါမတွေ့မမြင်။- ဤသို့သင်တို့အား
ငါရေး၍ ကြားလိုက်သည်တွင် မုသာစကားကို
ငါမပြောမသုံးဟု၊ ဘုရားသခင်ရှေ့တော်၌ ငါဆို
၂၁ ၏။- ထိုနောက်၊ ရှုရိပြည်၊ ကိလိကိပြည်သို့ ငါ
၂၂ သွား၍၊- ယုဒပြည်၌ ခရစ်တော်၏အသင်းကိုခံ
ယူသော သင်းဝင်သူတို့သည် မျက်နှာကိုမျှ မ
၂၃ သိမမှတ်ဘဲနေ၍၊- ငါတို့ကို ညှဉ်းဆဲဘူးသော

သူသည် အထက်ကဖိဖိဖျက်ဆီးသောယုံကြည်
ခြင်းတရားကိုယခုမိမိဟောပြောသည်ဟုသူတို့
၂၄ ကြားရုံမျှကာမျှ နှင့်၊- ငါ့အကြောင်းကြောင့်
ဘုရားသခင်ကိုချီးမွမ်းကြ၏။

၂

၁ ထိုနောက်၊ တဆယ်လေးနှစ် လွန်ပြီးမှ၊ ငါ
သည် တိတုကို ခေါ်၍ ဗာနဗနှင့် အတူ ယေရု
၂ ရှလင်မြို့သို့တဖန်သွားသေး၏။- ဗျာဒိတ်တော်အ
တိုင်းပင် သွားသည် ဖြစ်၍၊ တပါးအမျိုး တို့၌
ဟောပြောသောဧဝံဂေလိတရားကို ထိုအခါ ငါ
ကြားပြောလေ၏။ ထိုသို့ဆိုသော် ငါဆောင်ရွက်
ခဲ့ပြီးသော အမှုနှင့် နောက်၌ ဆောင်ရွက်သတည့်
သောအမှုကို အချည်းနှီးမဖြစ်စေခြင်းငှါ၊ အသ
ရေထင်ရှားသော သူတို့အားသာ တိတ်ဆိတ်စွာ
၃ ကြားပြော၏။- သို့သော်လည်း၊ ငါနှင့်အတူ ပါ
သော ဟေလသအမျိုးတိတုကို အရေဖျားလှီး
၄ ခြင်းကို မခံစေကြ။- ယေရှုခရစ်အားဖြင့် ငါတို့
ခံစားသောလွတ်ခြင်းအခွင့်ကို ချောင်းကြည့်၍
ငါတို့ကို ကျွန်ခံ စေမည် အကြံနှင့်၊ ပရိယာယ်
အားဖြင့် သူတပါး သွင်း၍ ငါတို့ အထဲ သို့ ဝင်
သောညီအစ်ကို၏အရောင်ကိုဆောင်သောသူတို့
၅ အကြောင်းကြောင့်ထိုသို့ပြုကြ၏။-မှန်သောဧဝံ
ဂေလိတရားသည် သင်တို့၌ တည်နေမည်အ
ကြောင်း၊ ငါတို့သည်ထိုသူတို့စီရင်ခြင်းကို ခဏ
၆ မျှ ဝန်မခံကြ။- အသရေထင်ရှားသော သူတို့
သည် အထက်က အဘယ်သို့သော သူဖြစ်ကြ
သည်ကိုငါမဆိုင်။ဘုရားသခင်သည်လူမျက်နှာ
ကို မှတ်တော်မမူ။ ထိုသူတို့နှင့် ငါသည် ပေါင်း
ဖော်၍ ထူးခြားသောအရာကို မခံရသည်သာမ
၇ က၊- အရေဖျားလှီးခြင်းကို ခံသော သူတို့တွင်
၈ ပေတရုကိုတမန်တော်ဖြစ်စေခြင်းငှါ၊ ပေတရု၌
ပြုပြင်တော်မူသောသူသည်၊ တပါးအမျိုးသား
တို့တွင်ငါ့ကိုတမန်တော်ဖြစ်စေခြင်းငှါငါ၌လည်း
ပြုပြင်တော်မူသည်ဖြစ်၍၊ အရေဖျားလှီးခြင်း
နှင့် စပ်ဆိုင်သောဧဝံဂေလိတရားကို ပေတရု၌
အပ်တော်မူသည်နည်းတူ၊ အရေဖျားလှီးခြင်း
နှင့် မစပ်ဆိုင်သော ဧဝံဂေလိတရားကိုငါ၌ အပ်
၉ တော်မူကြောင်းကိုသူတို့သည်သိမြင်ကြ၍၊-အ
ဂ္ဂိတကဲဖြစ်သောယာကုပ်၊ကေဖ၊ ယောဟန်တို့
သည်လည်း၊ ငါရသောကျေးဇူးတော်ကို သိကြ
သောအခါ၊ မိမိတို့သည်အရေဖျားလှီးခြင်းကို ခံ
သော သူတို့ဆီသို့ သွားမည် အကြောင်းနှင့်၊ ငါ
တို့သည်တပါးအမျိုးသားတို့ဆီသို့သွားမည်အ
ကြောင်း၊ လက်ျာ လက်ခံ ခြင်းကို ဗာနဗနှင့် ငါ
၁၀ အားပေးကြ၏။-ငါတို့သည်ဆင်းရဲသောသူများ
ကို အောင်းမေ့စေခြင်းငှါသူတို့အလို တခုတည်း
ရှိ၏။ ထိုအမှုကိုငါသည် အလိုအလျောက် ကြိုး
စားအားထုတ်လေ့ရှိ၏။
၁၁ ထိုနောက်၊ ပေတရုသည် အန္တိအုတ် မြို့သို့
ရောက်လာသောအခါ၊ သူ၌ အပြစ်တင်စရာ အ
ခွင့်ရှိသောကြောင့်သူကိုယ်တိုင်ကိုငါငြင်း၍ဆီး
၁၂ တားရ၏။-အကြောင်းမူကား၊ လူအချို့တို့သည်
ယာကုပ်ထံကမရောက်မလာမှီ၊ ပေတရုသည်တ
ပါးအမျိုးသားတို့နှင့်အတူစား၏။ သူတို့ရောက်
လာသောနောက်၊ ပေတရုသည် အရေဖျားလှီး
ခြင်းကိုခံသောသူတို့၏မျက်နှာကို ထောက်၍တ
ပါးအမျိုးသားတို့နှင့် မပေါင်းဝံ့။ တယောက်တ
၁၃ ခြားစီနေ၏။-ကြွင်းသောယုဒလူတို့သည်ပေတရု
နှင့်အတူလှည့်ဖျက်၍၊သူတို့၏လှည့်ဖျက်ခြင်းအားဖြင့်
ဗာနဗသည်လည်း သူတို့ဘက်သို့ ပါသွား၏။-
၁၄ သူတို့သည် မှန်သော ဧဝံဂေလိတရားနှင့် အညီ
ဖြောင့်မတ်စွာ မကျင့်ကြောင်းကို ငါသည် မြင်
လျှင်၊ ထိုသူအပေါင်းတို့ရှေ့မှာ ပေတရုအား ငါ
ဆိုသည်ကား၊ သင်သည် ယုဒလူ ဖြစ်လျက်ပင်
ယုဒထုံးစံအတိုင်းမကျင့်ဘဲ၊ တပါးအမျိုး၏ထုံး
စံအတိုင်းကျင့်လျှင်၊ တပါးအမျိုးသားတို့သည်
ယုဒ ထုံးစံအ တိုင်း ကျင့် စေခြင်း ငှါ အဘယ်
၁၅ ကြောင့်သူတို့ကိုအနိုင်အထက်ပြုသနည်း။- လူ
တို့သည်ပညတ်တရား၏အကျင့်အားဖြင့်ဖြောင့်
၁၆ မတ်ရာသို့ မရောက်၊- ယေရှုခရစ်ကို ယုံကြည်
ခြင်းအားဖြင့် ဖြောင့်မတ်ရာသို့ ရောက်ကြသည်
ကို၊ အပြစ်ထင်ရှားသော တပါးအမျိုး သားမ
ဟုတ်ဘဲ၊ဇာတိအမျိုးအားဖြင့်ယုဒလူဖြစ်သော
ငါတို့ သည် အမှန်သိ သည် နှင့် အညီ၊ ပညတ်
တရား၏ အကျင့် အားဖြင့် ဖြောင့် မတ် ရာသို့ မ
ရောက်၊ ခရစ်တော်ကို ယုံကြည်ခြင်း အား ဖြင့်
ဖြောင့်မတ်ရာသို့ရောက်ခြင်းငှါ၊ ငါတို့ပင်ယေရှု
ခရစ်ကို ယုံကြည်ကြပြီ။ အကြောင်းမူကား၊
ပညတ်တရား၏ အကျင့် အားဖြင့် အဘယ်သူမျှ
၁၇ ဖြောင့်မတ်ရာသို့ မရောက်နိုင်ရာ။- ခရစ်တော်
အားဖြင့် ဖြောင့်မတ်ရာသို့ရောက်ခြင်းငှါ ငါတို့
သည် ကြိုးစားလျက်ပင်၊ အပြစ် ထင်ရှားသော
သူဖြစ်သေးသည်မှန်လျှင်၊ ခရစ်တော်သည် အ
ပြစ်တရားကိုပြုစုသောသူဖြစ်သလော။ ထိုသို့မ

၁၈ ဖြစ်နိုင်ရာ။-အထက်ကငါဖြိုဖျက်သောအရာကို
နောက်တဖန် ငါ တည်ဆောက်ပြန်လျှင်၊ ကိုယ်
၁၉ အပြစ်ရှိသည်ကို ကိုယ်ထင်ရှားစွာ ပြ၏။- ထိုမှ
တပါး၊ ငါသည်ဘုရားသခင်နှင့်ဆိုင်သောအရာ
၌အသက်ရှင်မည်အကြောင်း၊ ပညတ်တရားနှင့်
ဆိုင်သောအရာ၌ ပညတ် တရား အားဖြင့် သေ
၂၀ လျက်နေ၏။- ငါသည်ခရစ်တော်နှင့်အတူလက်
ဝါးကပ်တိုင်မှာ အသေခံပြီ။သို့သော်လည်း၊ အ
သက်ရှင်သေး၏။ ထိုသို့ ဆိုသော်ငါသည် ကိုယ်
တိုင်မရှင်၊ ခရစ် တော်သည် ငါ၌ ရှင်တော်မူ၏။
ကိုယ် ခန္ဓာ၌ ယခု ငါ ရှင် သော အသက် သည်
ဘုရားသခင်၏ သားတော်ကို ယုံကြည်ခြင်းအား
ဖြင့်တည်၏။ သားတော်သည်ငါ့ကို ချစ်၍၊ ငါ့အဖို့
၂၁ ကိုယ်ကို ကိုယ် စွန့်တော်မူ၏။- ဘုရား သခင်၏
ကျေးဇူးတော်ကိုငါမပယ်။ ပညတ်တရားကိုအ
မှီပြု၍ ဖြောင့် မတ်ရာသို့ ရောက်နိုင်လျှင်၊ ခရစ်
တော်သည်အချည်းနှီးအသေခံတော်မူပြီ။

၃

၁ ပညာမဲ့သော ဂလာတိ လူတို့၊ လက်ဝါးကပ်
တိုင်မှာ အသေ ခံတော် မူသော ယေရှု ခရစ် ကို
သင်တို့မျက်မှောက်၌ထင်ရှားစွာပြပြီးသည်ဖြစ်
၍၊ သမ္မာတရားကို နားမထောင်စေခြင်းငှါ သင်
၂ တို့ကိုအဘယ်သူပြုစားသနည်း။-ပညတ်တရား
၏ အကျင့် အားဖြင့် ဝိညာဉ် တော်ကို ခံရကြသ
လော။သို့မဟုတ်၊ယုံကြည်ခြင်းတရားကိုကြားနာ
ခြင်းအားဖြင့်ခံရကြသလောဟူသောအရာတခု
၃ ကိုသာသင်တို့၌ငါသိလို၏။-ဤမျှလောက်ပညာ
မဲ့ကြသလော။ ဝိညာဉ်တော်ကိုအမှီပြု၍လုပ်စရှိ
၄ ပြီးမှ၊ဇာတိကိုအမှီပြု၍ပြီးစေကြသလော။- ဤ
မျှလောက်သောဆင်းရဲခြင်းကိုအချည်းနှီးခံကြ
ပြီလော။အချည်းနှီးသက်သက်ဖြစ်ရမည်လော။-
၅ ထိုမှတပါး၊ ဝိညာဉ်တော်ကိုသင်တို့အားပေး၍၊
သင်တို့၌တန်ခိုးများကိုပြသောသူသည် ပညတ်
တရား ၏ အကျင့်အားဖြင့် ပြသလော။ ယုံကြည်
၆ ခြင်းတရားကို နာခြင်းအားဖြင့် ပြသလော။- ထို
နည်းတူ၊အာဗြဟံသည်ဘုရားသခင်ကိုယုံကြည်
သည်ဖြစ်၍၊ သူ၏ ယုံကြည်ခြင်း ကို ဖြောင့်မတ်
၇ ခြင်းကဲ့သို့မှတ်တော်မူ၏။-ယုံကြည်ခြင်းရှိသော
သူသည် အာဗြဟံ၏သား ဖြစ်သည်ဟု အမှန်သိ
၈ မှတ်ကြလော့။-ဘုရားသခင်သည်ယုံကြည်ခြင်းကို
ထောက်၍၊ တပါးအမျိုးသားတို့ကိုဖြောင့်မတ်
ရာ၌တည်စေတော်မူမည်ဟု ကျမ်းစာသည်မျှော်
မြင်လျက်၊ အာဗြဟံ အား အမိန့်ရှိ၍၊ သင့်အား
ဖြင့်လူမျိုးအပေါင်းတို့သည်ကောင်းကြီးမင်္ဂလာ
ကိုခံရကြလိမ့်မည်ဟု၊ ဧဝံဂေလိတရားကိုဟော
၉ နှင့်လေ၏။-သို့ဖြစ်၍၊ယုံကြည်ခြင်းရှိသောသူတို့
သည် ယုံကြည်သောအာဗြဟံနှင့်အတူကောင်း
၁၀ ကြီးမင်္ဂလာကိုခံရကြ၏။-ပညတ်တရား၏အကျင့်
ကိုအမှီပြုသောသူရှိသမျှတို့သည် အကျိန်နှင့်စပ်
ဆိုင်ကြ၏။ အကြောင်းမူကား၊ပညတ္တိကျမ်းစာ၌
ပါသမျှ သော စကားတို့ကို အမြဲမကျင့်သော သူ
တိုင်း၊ ကျိန်တော်မူခြင်းကိုခံစေသတည်းဟုကျမ်း
၁၁ စာလာ၏။-တဖန်တုံ၊ဖြောင့်မတ်သောသူသည်ယုံ
၁၂ ကြည်ခြင်းအားဖြင့်အသက်ရှင်လိမ့်မည်။-ပညတ်
တရားမူကား၊ ယုံကြည်ခြင်းနှင့် မစပ်ဆိုင်။ ထို
အကျင့်ကို ကျင့်သော သူသည် ထိုအကျင့် အား
၁၃ ဖြင့် အသက် ရှင်လိမ့်မည်ဟု ဆိုသတည်း။- ထို
ကြောင့်၊ ဘုရားသခင် ရှေ့တော်၌ ပညတ်တရား
အားဖြင့်အဘယ်သူမျှဖြောင့်မတ်ရာသို့မရောက်
နိုင်ဟု ထင်ရှားလျက် ရှိ၏။ သစ်တိုင်၌ ဆွဲထား
ခြင်းကိုခံရသောသူတိုင်း ကျိန်ခြင်းကို ခံရသော
သူ ဖြစ် သည်ဟု ကျမ်းစာ လာသည် နှင့် အညီ၊
ခရစ်တော်သည်ငါတို့အတွက်ကြောင့်ကျိန်ခြင်း
ကို ခံရသောသူဖြစ်၍၊ ငါတို့ကို ပညတ်တရား၏
၁၄ ကျိန်ခြင်းမှ ရွေးနုတ်တော် မူပြီ။- အကြောင်းမူ
ကား၊ အာဗြဟံ ခံ ရ သော ကောင်း ကြီး မင်္ဂ လာ
သည် ယေရှုခရစ် အားဖြင့်၊ တပါး အမျိုး သား
တို့၌ သက်ရောက်သည်ဖြစ်၍၊ ငါတို့သည် ဂတိ
တော်နှင့် ရှည်သော ဝိညာဉ် တော်ကို ယုံကြည်
ခြင်းအားဖြင့်ခံရကြမည်အကြောင်းတည်း။
၁၅ ညီအစ်ကိုတို့၊ လောကီဝေါဟာရအားဖြင့် ငါ
ပြောမည်။ လူသော်လည်းဝန်ခံစာကို ချုပ်ပြီးမှ
အဘယ်လူမျှ မပယ်ရ။ ထပ်ဆင့်၍ စကားကို မ
၁၆ သွင်းရ။- ဂတိတော်တို့ကိုအာဗြဟံနှင့်သူ၏ အ
မျိုးအနွယ်၌ ထားတော်မူ၏။ အမျိုးအနွယ်တို့
ဟု၊ အများသောသူတို့ကိုရည်မှတ်၍မိန့်တော်မူ
သည် မဟုတ်။ သင် ၏ အမျိုး အနွယ် ဟု၊ တ
ယောက်သော သူကို ရည်မှတ်၍ မိန့် တော်မူ၏။
ထို တယောက်သော သူကား၊ ခရစ်တော် ဖြစ်သ
၁၇ တည်း။- ငါဆိုသည်ကား၊ ခရစ်တော်ကို ရည်
မှတ်၍၊ ဘုရားသခင် တည်စေတော်မူ နှင့် သော
ပဋိညာဉ်တရားကိုအနှစ်လေးရာသုံးဆယ်လွန်
ပြီးမှနောက်ဖြစ်သောပညတ်တရားသည်မပယ်
၁၈ နိုင်။ဂတိတော်ကိုအချည်းနှီးမဖြစ်စေနိုင်။- ထို

မှတ်ပါ။ အရှေ့တော်ထည့်ပညတ်တရားနှင့်စပ်
ဆိုင်လျှင်၊ဂတိတော်နှင့်မစပ်ဆိုင်၊ဘုရားသခင်
သည် ဂတိတော်အားဖြင့် အာဗြဟံ အား ထိုအ
၁၉ မွေတော်ကိုသနားတော်မူ၏။-သို့ဖြစ်၍၊ပညတ်
တရားသည် အ ဘယ် အ ကျိုး ရှိ သ နည်း ဟူမူ
ကား၊ ဂတိတော်ကိုခံသော အမျိုးအနွယ်မဖြစ်
မှီတိုင်အောင်၊ဒုစရိုက်များကြောင့် ထိုတရားကို
ထပ်၍ပေးတော်မူ၏။ ထိုတရားကိုကောင်းကင်
တမန်များအားဖြင့်အာမခံ၏လက်၌ ထားတော်
၂၀ မူ၏။- အာမခံမည်သည်ကား၊ တဖက်နှင့်သာ
ဆိုင်သည်မဟုတ်၊ ဘုရားသခင်မူကား၊ တပါးတည်း
၂၁ ဖြစ်တော်မူ၏။- သို့ဖြစ်၍၊ ပညတ် တရားသည်
ဘုရားသခင်၏ဂတိတော်တို့နှင့် ဆန့်ကျင်ဘက်
ဖြစ်သလော၊ ထိုသို့မဖြစ်နိုင်ရာ၊ အသက်ရှင်စေ
နိုင်သောပညတ်တရားကို ပေးတော်မူသည်မှန်
လျှင်၊ အကယ် စင်စစ် ထိုတရားအားဖြင့် ဖြောင့်
၂၂ မတ်ခြင်းကိုရလိမ့်မည်။- ယခုမူကား၊ ယုံကြည်
သော သူတို့သည် ယေရှုခရစ်ကို ယုံကြည် ခြင်း
နှင့်စပ်ဆိုင်သောဂတိတော်ကိုရမည်အကြောင်း
ကျမ်းစာသည် လူအပေါင်း တို့ကို အပြစ်၌ ချုပ်
၂၃ ထား၏။-ယုံကြည်ခြင်းတရားမရောက်မှီပညတ်
တရားသည်စောင့်နေသည်ဖြစ်၍၊ ထိုအခါငါတို့
သည် နောက်၌ ထင် ရှား ထတ့်သော ယုံကြည်
ခြင်းတရားကို မျှော်ထင့်၍ ချုပ်ထားလျက်ရှိကြ
၂၄ ၏။- ထိုကြောင့်၊ ငါတို့သည်ယုံကြည်ခြင်းအား
ဖြင့်ဖြောင့်မတ်ရာသို့ရောက်စေခြင်းငှါ၊ ပညတ်
တရားသည် ခရစ်တော်ထံသို့ငါတို့ကို ပို့ဆောင်
၂၅ ၍ငါတို့၏အထိန်းဖြစ်သတည်း။- ယုံကြည်ခြင်း
တရားသည် ရောက်လာသောအခါ၊ ငါ တို့သည်
၂၆ ထိုအထိန်းထက်မှလွတ်ကြ၏။- အဘယ်သို့နည်း
ဟူမူကား၊သင်တို့အပေါင်းသည် ယေရှုခရစ်ကို
ယုံကြည်သဖြင့်ဘုရားသခင်၏ သားဖြစ်ကြ၏။-
၂၇ ခရစ် တော်၌ နှစ်ခြင်း ကို ခံသော သူ ရှိသမျှ တို့
သည်ခရစ်တော်ကို ယူတင်ဝတ်ဆောင်သောသူ
၂၈ ဖြစ်ကြ၏။- ယေရှုခရစ်၌ယုဒလူမရှိ၊ ဟေလသ
လူမရှိ၊ကျွန်မရှိ၊ လူလွတ်မရှိ၊ယောကျ်ားမရှိ၊ မိန်း
မရှိ၊ ထိုသခင်၌သင်တို့အပေါင်းသည် တလုံးတ
၂၉ ဝတည်းဖြစ်ကြ၏။-ခရစ်တော်နှင့်စပ်ဆိုင်လျှင်၊
အာဗြဟံ၏ အမျိုးအနွယ်ပင်ဖြစ်၍၊ ဂတိတော်
အတိုင်းအမွေခံ၏အရာ၌တည်ကြ၏။

၄

၁ တခန့်တုံ၊အမွေခံမည်သည်ကား၊ဥစ္စာရှိသမျှ
ကိုပိုင်ထိုက်သော သူဖြစ်သော်လည်း၊ အရွယ်မ
ရောက်မှီ ကာလပတ်လုံးအစေအပါကျွန်နှင့် တူ
၂ ၏။- အဖစီရင်နှင့်သောအချိန်ကာလမရောက်မှီ
တိုင်အောင် အစောင့်အထိန်း အအုပ်အချုပ် တို့
၃ လက်၌ရှိ၏။- ထိုနည်းတူ၊ ငါတို့သည် အရွယ်မ
ရောက်မှီ၊ လောကီတရားနှ လက်၌ ကျွန်ခံရကြ
၄ ၏။- အချိန် ကာလ စေ့သော အခါ၊ ငါ တို့သည်
သား၏ အခွင့် အရာ ကို ခံရ မည် အ ကြောင်း၊-
၅ ပညတ်တရားထက်၌ ရှိသောငါတို့ကို ရွေးနှုတ်
စေခြင်းငှါ၊ မိန်း မ ဝမ်း၌ ပဋိသန္ဓေ ယူ၍ ပညတ်
တရားအောက်၌ ဖွားမြင်ရသော သားတော်ကို
၆ ဘုရားသခင် သည် စေလွှတ် တော်မူ၏။- ထိုသို့
သင်တို့သည် သားဖြစ်သောကြောင့်အဗ္ဗအဖဟု
ခေါ်တတ် သော သားတော်၏ ဝိညာဉ်တော် ကို
သင်တို့ စိတ်နှစ်လုံးထဲသို့ ဘုရားသခင် စေလွှတ်
၇ တော်မူ၏။-သို့ဖြစ်၍၊သင်တို့သည်နောက်ထပ်
အစေအပါကျွန်မဖြစ်၊သားပင်ဖြစ်ကြ၏။ သား
ဖြစ်လျှင်၊ ခရစ်တော်အားဖြင့်ဘုရားသခင်၏အ
မွေခံထည်းဖြစ်ကြ၏။
၈ သို့ သော် လည်း၊ အ ထက် က သင် တို့ သည်
ဘုရားသခင်ကိုမသိသောအခါ၊ ဇာတိအားဖြင့်
ဘုရားမဟုတ်သော သူတို့၏ အမှုကို ဆောင်ရွက်
၉ ကြ၏။-ယခုမူကား၊ သင်တို့သည်ဘုရားသခင်ကို
သိပြီးမှဟူ၍ မဆို၊ဘုရားသခင်သည်သင်တို့ကို
သိတော်မူပြီးမှ၊ အားမရှိ၊ ချမ်းသာ မ ပေး နိုင်
သော တရားနှထက်သို့ အဘယ်ကြောင့် တဖန်
ပြောင်းထဲကြသနည်း။ ထိုလောကီတရား၌တဖန်
၁၀ ကျွန်ခံခြင်းငှါ အလိုရှိကြပြီတကား။- နှစ်၊ လ၊
နေ့ရက်၊ အချိန်ကာလ များကို စောင့် ကြ ပြီ တ
၁၁ ကား။-ငါသည်သင်တို့ဆီမှာအချည်း၊နှီးကြိုးစား
အားထုတ်သည်ဟု၊သင်တို့၏အကြောင်းကြောင့်
၁၂ စိုးရိမ်လျက်ရှိ၏။- ညီအစ်ကိုတို့၊ သင်တို့ကဲ့သို့
ငါဖြစ်၏။ ငါကဲ့သို့ သင်တို့ ဖြစ်ကြ လော့ ဟု ငါ
တောင်းပန်၏။ သင်တို့သည် ငါ့ကိုအလျှင်းမပြစ်
၁၃ မှားကြ။-ငါသည်ကိုယ်နာခြင်းရောဂါနှင့်တကွ၊
ဧဝံဂေလိတရားကိုသင်တို့အားအထက်ကဟော
၁၄ ပြောကြောင်းကိုသင်တို့သိကြ၏။- ကိုယ်ကာယ
၌ ငါခံရသောစုံစမ်းခြင်းကို သင်တို့သည်မထီမဲ့
မြင် မပြု၊ ငါ့ ကို မပယ်၊ ဘုရား သခင် ၏ ကောင်း
ကင်တမန်ကဲ့သို့၎င်း၊ ယေရှုခရစ်ကဲ့သို့၎င်းထက်
၁၅ ခံကြ၏။- သို့ဖြစ်လျှင်၊ သင်တို့ခံရသောမင်္ဂလာ
ကား၊ အဘယ်မင်္ဂလာနည်း။ အထက်ကကိုယ်

မျက်စိကိုထုတ်၍ ငါ့အားပေးနိုင်လျှင် ပေးခြင်း
ငှါ၊ သင်တို့အလိုရှိသည်ဟု ငါသက်သေခံ၏။-
၁၆ ယခုမူကား၊ ငါသည်သမ္မာတရားကိုသင်တို့အား
ဟောပြောသောကြောင့် သင်တို့၏ရန်သူ ဖြစ်သ
၁၇ လော။- သူတပါးတို့သည်သင်တို့ကိုအလွန်ချစ်
ကြသည် မှန်စေတော့။ ကောင်းသောအကြံဖြင့် ချစ်ကြ
သည်မဟုတ်။ သင်တို့သည် သူတို့ကိုအလွန်ချစ်
မည်အကြောင်း၊သူတို့သည်သင်တို့ကိုပယ်ခြင်း
၁၈ ငှါအလိုရှိကြ၏။-သို့သော်လည်း၊သင်တို့နှင့်အ
တူငါရှိစဉ်တွင်သာ၊ ကောင်းသောအရာကို အ
လွန် ချစ်အပ်သည်မဟုတ်။ အစဉ်မပြတ်အလွန်
၁၉ ချစ်အပ်၏။-ခရစ်တော်သည်သင်တို့အထဲ၌တည်
လျက် ရှိတော်မူသည် တိုင်အောင်၊ သင်တို့ အမှို
သား ဖွားခြင်း ဝေဒနာကို ငါခံရသောချစ်သား
၂၀ တို့၊- သင်တို့ကို ငါယုံမှားခြင်း ရှိသောကြောင့်၊
ယခု သင်တို့ကို ကိုယ်တိုင်တွေ့၍ ထူးခြား သော
စကားကိုပြောခြင်းငှါအလိုရှိ၏။
၂၁ ပညတ်တရားအောက်၌နေချင်သောသူတို့၊သင်
တို့သည်ပညတ်တရားကိုနားမလည်ကြသလော။-
၂၂ ပညတ္တိ ကျမ်းစာ၌လာသည်ကား၊ အာဗြဟံ ၌
သား နှစ်ယောက် ရှိ၏။ သား တယောက် ကား၊
ကျွန်မ၏သားဖြစ်၏။ တယောက်ကား၊ ကျွန်မ မ
ဟုတ်သောမိန်းမ၏ သားဖြစ်၏ဟု လာသတည်း။-
၂၃ ကျွန်မ၏သားသည် ဇာတိပကတိအားဖြင့် ဖွား
သောသားဖြစ်၏။ ကျွန်မမဟုတ်သောမိန်းမ၏သား
သည်ဂတိတော်အားဖြင့်ဖွားသောသားဖြစ်၏။-
၂၄ ထိုအကြောင်းအရာကိုပုံပမာအားဖြင့်ဆိုသော်၊
ထိုမိန်းမနှစ်ယောက်ကား၊ပဋိညာဉ်တရားနှစ်ပါး
ကို ဆိုလိုသတည်း။ ဟာဂရအမည်ရှိသော မိန်း
မတည်းဟူသော ပဋိညာဉ်တရားတပါးသည် သိ
နာတောင်ပေါ်မှာစီရင်၍၊ကျွန်များကိုဖွားတတ်
၂၅ သောတရားဖြစ်၏။- အကြောင်းမူကား၊ ဟာဂ
ရသည် အာရပ်ပြည်၌ ရှိသောသိနာ တောင်ဖြစ်
၏။ယခုရှိသောယေရုရှလင်မြို့နှင့်တူ၏။မိမိသား
၂၆ များနှင့်တကွကျွန်ခံရ၏။-အပေါ်မှာရှိသောယေ
ရုရှလင်မြို့မူကား၊ ခပ်သိမ်းသော ငါတို့၏ အမိ
တည်းဟူသော ကျွန်မ မဟုတ်သော မိန်းမ ဖြစ်သ
၂၇ တည်း။- ကျမ်းစာလာသည်ကား၊ သားမဖွား
သောအမြုံမ၊ ဝမ်းမြောက်လော့။ သားဖွားခြင်း
ဝေဒနာကို မခံသေးသောမိန်းမ၊ ကြွေးကြော်အော်
ဟစ်လော့။အကြောင်းမူကား၊စွန့်ထားသောမိန်းမ
သည်ထင်ရှိသောမိန်းမထက်သာ၍များသောသား
၂၈ တို့ကို ဖွားမြင်ပြီဟု လာသတည်း။- ညီအစ်ကို
တို့၊ ငါတို့သည်ဣဇာက်ကဲ့သို့ ဂတိတော်နှင့်စပ်
၂၉ ဆိုင်သော သားဖြစ်ကြ၏။- ထိုအခါ ဇာတိပက
တိအားဖြင့် ဖွားသောသားသည် ဝိညာဉ်တော်
အားဖြင့် ဖွားသောသားကို ညှဉ်းဆဲသကဲ့သို့၊
၃၀ ထိုနည်းတူယခုပင်ဖြစ်၏။- သို့သော်လည်း၊ အ
ဘယ်သို့ကျမ်းစာလာသနည်းဟူမူကား၊ ကျွန်မ
နှင့်သူ၏သားကို နှင်ထုတ်လော့။ ကျွန်မ၏သား
သည် ကျွန်မ မဟုတ်သော မိန်းမ၏သားနှင့်အတူ
၃၁ အမွေမခံရဟု လာသတည်း။- ယခုတွင်ညီအစ်
ကိုတို့၊ ငါတို့သည် ကျွန်မ၏သားမဟုတ်။ ကျွန်မ
မဟုတ်သောမိန်းမ၏သားဖြစ်ကြ၏။

၅

၁ ထိုကြောင့်၊ ခရစ်တော်သည် ငါတို့ ကို လွှတ်
တော်မူသောလွတ်ခြင်းအခွင့်၌တည်နေသဖြင့်၊
ကျွန်ခံရာထမ်းဘိုးကိုထမ်း၍ချည်နှောင်ခြင်းကို
တဖန်မခံကြနှင့်။
ငါပေါလု ဆိုသည်ကား၊ သင်တို့သည် အရေ
ဖျားလှီးခြင်းကိုခံလျှင်၊ ခရစ်တော်အားဖြင့် အ
၂ ဘယ်အကျိုးကိုမျှ မရနိုင်ကြ။- အရေဖျားလှီး
ခြင်းကို ခံသော သူအပေါင်း တို့အား ငါတဖန်
သက်သေခံ သည် ကား၊ ထို သို့ သော သူ သည်
ပညတ်တရားကိုအကြွင်းမဲ့ကျင့်အံ့သောငှါကြွေး
၃ တင် သော သူ ဖြစ် ၏။- ပညတ် တရား အား ဖြင့်
ဖြောင့်မတ်ရာသို့ရောက်သမျှသောသင်တို့သည်
ခရစ်တော်နှင့်ကွာ၍၊ ကျေးဇူးတရား၌ မတည်၊
၄ ရွေလျှော့ ကြပြီ။- ငါတို့ မူကား၊ ယုံကြည်ခြင်း
အားဖြင့်ဖြောင့်မတ်ရာသို့ရောက်မည်ဟု၊ မျှော်
လင့်သော ကျေးဇူးတော်ကို ဝိညာဉ် တော်အား
၅ ဖြင့် ငံ့လင့်၍ နေကြ၏။- ယေရှုခရစ်ထံ၌ အရေ
ဖျားလှီးခြင်းအကျိုးမရှိ။မခံဘဲနေခြင်းလည်းအ
ကျိုးမရှိ။ မေတ္တာအားဖြင့် ပြုပြင်တတ်သော ယုံ
၆ ကြည်ခြင်းသာအကျိုးရှိ၏။- အထက်က၊သင်တို့
သည်ကောင်းမွန်စွာပြေးကြ၏။ သို့ဖြစ်၍၊ သမ္မာ
တရားကိုနားမထောင်စေခြင်းငှါ အဘယ်သူဆီး
၇ တားသနည်း။- ယခုယူသောအယူကား၊သင်တို့
ကိုခေါ်တော်မူသောသူ၏ သြဝါဒကို အမှီပြု၍ယူ
၈ သောအယူမဟုတ်။- အနည်းငယ်သောတဆေး
သည် မုန့်စိမ်းတပုံလုံးကို ဖေါင်းကြွစေတတ်၏။-
၉ သင်တို့သည် ကွဲပြားသောအယူရှိသမျှကို ပယ်
လိမ့်မည်ဟု၊ သခင်ဘုရားကို ငါအမှီပြု၍စိတ်စွဲ
၁၀ ထမ်းခြင်းရှိ၏။ သင် တို့ကို နှောင့်ရှက်သော သူ



 

မည်သည်ကား၊ မိမိအပြစ်ဒဏ်ကို ခံရလိမ့်
၁၀ မည်။— တဖန်တုံ၊ ညီအစ်ကိုတို့၊ ငါသည်အရေ
ဖျားလှီးခြင်းတရားကို ဟောပြောသေးသည်
မှန်လျှင်၊ အဘယ်ကြောင့် ညှဉ်းဆဲခြင်းကို ခံရ
သေးသနည်း။ ထိုသို့ဟောပြောလျှင်၊ လက်ဝါး
ကပ်တိုင်တော်ကို ထိမိ၍ လဲစရာအကြောင်း
၁၂ ပယ်ရှင်းလျက်ရှိ၏။— သင်တို့ကို မှောက်မှားစေ
သောသူတို့ကို ပယ်ရှားနှင်ထုတ်စေခြင်းငှါ ငါ
အလိုရှိ၏။
၁၃ ညီအစ်ကိုတို့၊ သင်တို့သည် လွတ်ခြင်းအခွင့်
ကိုရသောသူဖြစ်ကြ၏။ သို့သော်လည်း၊ ဇာတိ
ပကတိအား အခွင့်ကိုပေး၍၊ ထိုလွတ်ခြင်းကို မ
သုံးကြနှင့်။ အချင်းချင်းချစ်၍အမှုချင်းကိုဆောင်
၁၄ ရွက်ကြလော့။— အကြောင်းမူကား၊ ကိုယ်နှင့်
စပ်ဆိုင်သောသူကို ကိုယ်နှင့်အမျှ ချစ်လော့ဟူ
သောပညတ်တပါးကိုကျင့်လျှင်၊ ပညတ်တရားရှိ
၁၅ သမျှကိုအကြွင်းမဲ့ကျင့်ရာရောက်၏။—သို့မဟုတ်၊
အချင်းချင်း ကိုက်စားလျှင် အချင်းချင်းဖျက်ဆီး
မည်ဟု စိုးရိမ်၍သတိရှိကြလော့။
၁၆ ငါပညတ်သည်ကား၊ ဝိညာဉ်ပကတိအတိုင်း
ကျင့်ကြလော့။ ထိုသို့ကျင့်လျှင်၊ ဇာတိပကတိ၏
၁၇ အလိုသို့မလိုက်ဘဲနေကြလိမ့်မည်။—အကြောင်း
မူကား၊ ဇာတိပကတိနှင့် ဝိညာဉ်ပကတိ သည်
တမါးနှင့် တပါး ဆန့်ကျင်သောအလို ရှိကြ၏။
တပါးနှင့် တပါး ဆန့်ကျင်ဘက် ဖြစ်၍၊ သင်တို့
သည် ကျင့်ချင်သောအကျင့်ကို မကျင့်နိုင်ကြ။—
၁၈ သို့သော်လည်း၊ ဝိညာဉ်ပကတိ အလိုသို့ လိုက်
၁၉ လျှင်၊ ပညတ်တရားနှင့် လွတ်ကြ၏။— ဇာတိပက
တိအကျင့်တို့သည် ထင်ရှားကြ၏။ ထိုအကျင့်တို့
မူကား၊ သူမယားကိုပြစ်မှားခြင်း၊ မတရားသော
မေထုန်ဌ်မှီဝဲခြင်း၊ ညစ်ညူးစွာကျင့်ခြင်း၊ ကိလေ
၂၀ သာလွန်ကျူးခြင်း၊— ရုပ်တုကိုကိုးကွယ်ခြင်း၊
သူတပါးကို ပြုစားခြင်း၊ ရန်ငြိုးဖွဲ့ခြင်း၊ ရန်တွေ့
ခြင်း၊ ဂုဏ်ပြိုင်ခြင်း၊ အမျက်ထွက်ခြင်း၊ ငြင်းခုံ
၂၁ ခြင်း၊ အချင်းချင်းကွဲပြားခြင်း၊ သင်းခွဲခြင်း၊— သူ
အကျိုးကို ငြူစူခြင်း၊ လူအသက်ကို သတ်ခြင်း၊
ယစ်မျိုးကို သောက်ကျူးခြင်း၊ ပွဲလုပ်ခြင်းမှစ
၍ ထိုသို့သောအကျင့်ပေတည်း။ ထိုသို့သောအ
ကျင့်ကိုကျင့်သောသူတို့သည် ဘုရားသခင်၏နိုင်
ငံတော်ကို အမွေမခံရကြဟု၊ အထက်က ငါပြော
နှင့်ခဲ့ပြီးသည်အတိုင်း ယခုပင်လည်း ငါပြော
၂၂ နှင့်၏။—ဝိညာဉ်ပကတိ၏အကျိုးမူကား၊ ချစ်ခြင်း၊
ဝမ်းမြောက်ခြင်း၊ ငြိမ်သက်ခြင်း၊ စိတ်ရှည်ခြင်း၊
ကျေးဇူးပြုခြင်း၊ ကောင်းမြတ်ခြင်း၊ သစ္စာစောင့်
၂၃ ခြင်း၊—နူးညံ့သိမ်မွေ့ခြင်း၊ ကာမဂုဏ်ချုပ်တည်း
ခြင်းပေတည်း။ ထိုသို့သောအကျင့်ကို အဘယ်
၂၄ တရားမျှမမြစ်တား။—ခရစ်တော်နှင့်စပ်ဆိုင်သော
သူတို့သည် ဇာတိပကတိကိုငင်၊ ဇာတိပကတိ
စိတ်များနှင့်အလိုဆန္ဒများကိုငင်၊ လက်ဝါးကပ်
၂၅ တိုင်မှာမိုက်ထားကြပြီ။— သို့ဖြစ်၍၊ ငါတို့သည်
ဝိညာဉ်ပကတိကြောင့်အသက်ရှင်လျှင်၊ ဝိညာဉ်
၂၆ ပကတိ အတိုင်း ကျင့်ကြကုန်အံ့။— အချည်းနှီး
သောကျော်စောကိတ္တိကို တပ်မက်ခြင်း၊ အချင်း
ချင်းရုပ်ချယ် နှောင့်ယှက်ခြင်း၊ အချင်းချင်း ငြူစူ
ခြင်းတို့ကိုရှောင်၍နေကြကုန်အံ့။

၆

၁ ညီအစ်ကိုတို့၊ လူသည်သတိလစ်၍ တစုံတခု
သောဒုစရိုက်ကို ပြုမိလျှင်၊ ဝိညာဉ် ဆုကျေးဇူး
ကိုခံရသောသင်တို့သည်အပြစ်သွေးဆောင်ခြင်း
နှင့် ကိုယ်တိုင် လွတ်မည် အကြောင်း၊ ကိုယ်ကို
သတိပြုလျက် သိမ်မွေ့နူးညံ့သော သဘောနှင့်
ထိုသို့သောသူကိုမစ၍၊ သူ၏နေရာ၌တည်မြဲစေ
၂ စေပြန်ကြလော့။— ထမ်းရွက်စရာဝန်ချင်းတို့ကို
အချင်းချင်း ကူညီ၍ ထမ်းရွက်သောအားဖြင့်
၃ ခရစ်တော်၏တရားကို ကျင့်ကြလော့။— အကြွင်
သူသည် အဘမျှမဟုတ်ဘဲလျက်၊ ဤမျှလောက်
ငါဖြစ်သည်ဟုစိတ်ထင်လျှင်၊ ထိုသူသည်ကိုယ်
၄ ကိုလှည့်ဖြားသောသူဖြစ်၏။— လူတိုင်းကိုယ်ပြု
သောအမှုကိုစစ်ကြောစေ။ သို့ပြုလျှင်၊ သူတပါး
၌မဆိုဘဲ၊ ကိုယ်၌သာဝါကြွားဝမ်းမြောက်စရာ
၅ အကြောင်းရှိလိမ့်မည်။— အဘယ်ကြောင့်နည်း
ဟူမူကား၊ လူအသီးအသီးတို့သည် မိမိတို့ဝန်ကို
ဆောင်ရွက်ရကြမည်။
၆ နှုတ်ကပတ်တရားကိုသင်သောသူသည် သင်
ပေးသောသူအား ကောင်းသောအရာရှိသမျှတို့
၇ ကိုဝေမျှစေ။— အလွဲမယူကြနှင့်။ ဘုရားသခင်
သည် မထီမဲ့မြင်ပြုခြင်းကို ခံတော်မမူ။ လူသည်
မျိုးစေ့ကြဲသည် အတိုင်း အသီးအနှံကို ရိတ်ရ
၈ လိမ့်မည်။— မိမိဇာတိပကတိ၌ မျိုးစေ့ကြဲသော
သူသည်ဇာတိပကတိအားဖြင့် ပုပ်ပျက်ခြင်းအ
သီးအနှံကို ရိတ်ရလိမ့်မည်။ ဝိညာဉ်ပကတိ၌
မျိုးစေ့ကြဲသောသူသည်ဝိညာဉ်ပကတိအားဖြင့်
ထာဝရအသက်ရှင်ခြင်း အသီးအနှံကို ရိတ်ရ
၉ လိမ့်မည်။—ငါတို့သည်အားမလျော့၊ စိတ်မပျက်

ဘဲကောင်းသောအကျင့်ကို ကျင့်ကြကုန်အံ့၊ ထို
သို့ တည်ကြည်၍ ကျင့်လျှင်၊ အချိန်တန်သော
၁၀ ကာလ၌အသီးအနှံ့ကိုရိတ်ရကြလိမ့်မည်။- ထို
ကြောင့်၊ ငါတို့သည် အဆင်သင့်သည်အတိုင်း
ယုံကြည်ခြင်း၏အိမ်သူအိမ်သားတို့၌အထူးသ
ဖြင့်ကျေးဇူးပြုလျက်၊ ခပ်သိမ်းသောသူတို့အား
ကျေးဇူးပြုကြကုန်အံ့။
၁၁ အဘယ်မျှလောက်ကြီးသောစာကို ကိုယ်
ထက်နှင့်သင်တို့အား ငါရေးလိုက်သည်ကိုသင်
၁၂ တို့မြင်ကြ၏။- မိမိတို့အသွေးအဆင်းတင့်တယ်
စေချင်သောသူရှိသမျှတို့သည် ခရစ်တော်၏
လက်ဝါးကပ်တိုင်ကြောင့် ခံရသောညှဉ်းဆဲ
ခြင်းနှင့်မိမိတို့ကင်းလွတ်လို၍၊ သင်တို့ကိုအရေ
ဖျားလှီးခြင်းကိုခံစေခြင်းငှါ အနိုင်အထက်သွေး
၁၃ ဆောင်တတ်ကြ၏။- အရေဖျားလှီးခြင်းကိုခံ
သောသူတို့သည် ပညတ်တရားကို ကိုယ်တိုင်မ
ကျင့်သည်ဖြစ်၍၊ သင်တို့၏အသွေးအဆင်းကိုအ
မှီပြုလျက်ဝါကြွားလို၍သင်တို့ကိုအရေဖျားလှီး
၁၄ ခြင်းကိုခံစေခြင်းငှါအလိုရှိကြ၏။- ငါမူကား၊
ငါတို့သခင်ယေရှုခရစ်၏လက်ဝါးကပ်တိုင်
တော်မှတပါး အဘယ်အရာနှင့်မျှဝါကြွားခြင်းမ
ရှိပါစေနှင့်။ ထိုလက်ဝါးကပ်တိုင်တော်မှာ ဤ
လောကသည် ငါ့အမှို့ရိုက်ထားခြင်းကို ခံလျက်ရှိ
၏။ ငါသည်လည်းဤလောကအမှို့ရိုက်ထားခြင်း
၁၅ ကိုခံလျက်ရှိ၏။- အကြောင်းမူကား၊ ယေရှုခရစ်
ထံ၌ အရေဖျားလှီးခြင်းအကျိုးမရှိ။ မခံဘဲနေ
ခြင်းလည်းအကျိုးမရှိ။ သတ္တဝါသစ်ဖြစ်ခြင်းသာ
၁၆ အကျိုးရှိ၏။- ဤနည်းဥပဒေသအတိုင်းကျင့်သော
သူရှိသမျှတို့အပေါ်၌၎င်း၊ ဘုရားသခင်၏ဣသ
ရေလအမျိုးအပေါ်၌၎င်း၊ ငြိမ်သက်ခြင်းနှင့် အ
၁၇ နားတော်မူခြင်းသက်ရောက်ပါစေသော။- ထိုမှ
မှစ၍ အဘယ်သူမျှငါ့ကို မနှောင့်ရှက်စေနှင့်။ ငါ
ကိုယ်၌သခင်ယေရှု၏ဒဏ်ချက်ရာကိုငါဆောင်
၁၈ ၏။- ညီအစ်ကိုတို့၊ ငါတို့သခင်ယေရှုခရစ်၏
ကျေးဇူးတော်သည်သင်တို့၏စိတ်နှစ်လုံး၌ရှိစေ
သတည်း။ အာမင်။

ဂလာတိဩဝါဒစာပြီး၏။

---

# ဧဖက်ဩဝါဒစာ။

## EPHESIANS.

၁

၁ ဘုရားသခင်၏အလိုတော်အားဖြင့်၊ ယေရှု
ခရစ်၏တမန်တော်ဖြစ်သော ငါပေါလုသည် ဧ
ဖက်မြို့၌နေသော သန့်ရှင်းသူတည်းဟူသော၊
ယေရှုခရစ်ကို ယုံကြည်သောသူတို့ကို ကြား
၂ လိုက်ပါ၏။- သခင်ယေရှုခရစ်နှင့် ငါတို့အဘ
တည်းဟူသော ဘုရားသခင်အထံတော်က ကျေး
ဇူးတော်နှင့် ငြိမ်သက်ခြင်းသည်သင်တို့၌ ရှိပါ
၃ စေသော။- ငါတို့သည် ဘုရားသခင်ရှေ့တော်၌
မေတ္တာအားဖြင့် သန့်ရှင်းလျက်၊ အပြစ်ကင်း
၄ လွတ်လျက် ဖြစ်မည်အကြောင်း၊- ဤကမ္ဘာမ
တည်မှီမှ ငါတို့ကို ခရစ်တော်၌ ရွေးကောက်
တော်မူသည်နှင့်အညီ၊ ကောင်းကင်ဘုံနှင့် ဆိုင်
သောအရာတို့၌ ခပ်သိမ်းသောစုံမင်္ဂလာတို့ကို
ခရစ်တော်အားဖြင့်ငါတို့အားပေးသနားတော်မူ
သော ငါတို့သခင်ယေရှုခရစ်၏ခမည်းတော်
ဘုရားသခင်သည်မင်္ဂလာရှိတော်မူစေသတည်း။-
၅ ထိုဘုရားသခင်သည် ချစ်တော်မူသောသား
၆ တော်ကြောင့်၊ ငါတို့အားပေးတော်မူသောကျေး
ဇူးတော်၏ဘုန်းအသရေကို ချီးမွမ်းစေခြင်းငှါ၊
ငါတို့သည် ယေရှုခရစ်အားဖြင့် သားအရာကိုရ
မည်အကြောင်း၊ အလိုတော်ရှိသောစေတနာအ
၇ တိုင်းရွေးမသွက ခွဲခန့်မှတ်သားတော်မူ၏။- ခပ်
၈ သိမ်းသောသတိပညာတော်နှင့်ပျော်မွေ့ ငါတို့
၌အတိုင်းထက်အလွန်များပြားသောကျေးဇူး
တော်သည် ကြွယ်ဝပြည့်စုံသည်နှင့် အညီ၊ ထို

သား၊တော်၏အသွေးအားဖြင့်အပြစ်လွှတ်တော်မူခြင်း တည်းဟူ သော ရွေး နှုတ် တော် မူခြင်း
၉ ကျေးဇူးကို ငါတို့သည်ခံရကြ၏။- ဘုရားသခင်သည် နှစ်လုံးသွင်းတော်မူသောစေတနာ တော်နှင့် လျော်သော အလိုတော်၏နက်နဲသော အရာ
၁၀ ကိုငါတို့အားပြတော်မူ၏။- ထိုနက်နဲသောအရာဟူမူကား၊ ကာလအချိန်ငွေ့စုံခြင်း၏ သာသနာတွင်ကောင်း၊ကင်ပေါ်၊မြေကြီး၊ပေါ်မှာရှိရှိသမျှ တို့ကိုပေါင်း၍ ခရစ်တော်၌ ချုပ်ခုံစေတော်မူလိမ့်
၁၁ သတည်း။- မိမိစေတနာ၏ အလိုတော်သို့ လိုက်၍၊ အလုံးစုံတို့ကို စီရင်ပြုပြင်တော်မူတတ်သောသူ၏ကြံစည်ခြင်းရှိသည်အတိုင်း၊ ရှေးမဆွကခွဲခန့်မှတ်သားတော်မူသည်နှင့်အညီ၊ ငါတို့သည်
၁၂ ထို ခရစ်တော် အားဖြင့် အမွေခံ ဖြစ်ကြ၏။- အကြောင်း မူ ကား၊ ခရစ် တော်ကို မျှော် လင့် နှင့်သော၊ ငါတို့ အားဖြင့် ဘုန်းတော်ကို ချီးမွမ်းစေ
၁၃ ခြင်း အကြောင်း ဖြစ်သတည်း။- သင်တို့သည်လည်း၊ ကယ် တင်တော်မူခြင်း အကြောင်း နှင့်ဆိုင်သော ဧဝံဂေလိတရားတည်းဟူသော သမ္မာတရားကိုကြားနာရ၍ ထိုခရစ်တော်ကိုယုံကြည်ပြီးမှ၊ ဂတိတော်နှင့် ဆိုင်သော၊ သန့်ရှင်းသောဝိညာဉ် တော်၏ တံဆိပ်ခတ်ခြင်း ကို ခံရကြပြီ။-
၁၄ ဝိုင်ထိုက်တော်မူသောသူတို့သည်ဘုန်းတော်ကိုချီးမွမ်းခြင်း၊အကြောင်းနှင့်ရွေးနှုတ်တော်မူခြင်းသို့ မရောက်မှီ ကာလ ပတ်လုံး ထို ဝိညာဉ် တော်သည်ငါတို့အမွေ၏စားရန် ဖြစ်တော်မူ၏။
၁၅ ထိုကြောင့်၊ သင်တို့သည် သခင်ယေရှုကို ယုံကြည်ခြင်းနှင့်၊ သန့်ရှင်းသူ အပေါင်းတို့ကို ချစ်ခြင်း အကြောင်းကို ငါ သည် ကြား ပြီး လျှင်၊-
၁၆ သင်တို့ကို အကြောင်းပြု၍ကျေးဇူးတော်ကို အစဉ်မပြတ် ချီးမွမ်းလျက်၊ သင်တို့ အမှီအလို ငှါ
၁၇ ဆုတောင်း ပဌနာ ပြုလျက် နေ ၏။- ဆုတောင်းသောအချက်ဟူမူကား၊ ငါတို့သခင်ယေရှုခရစ်၏ဘုရားသခင်ဖြစ်တော်မူသော၊ ဘုန်းကြီးသောအဖခမည်းတော်သည်ကိုယ်တော်မြတ်ကိုသိခြင်းအလိုငှါ ပညာကိုငှင်၊ထိုးထွင်းသောညာဏ်ကို
၁၈ ငှင်သင်တို့အား ပေးပါမည်အကြောင်း၊- ခေါ်တော်မူသောကြောင့်မျှော်လင့်ရသောအရာကား အဘယ်အရာ ဖြစ်သည်ကိုငှင်၊ သန့်ရှင်း သူတို့သည်ခံရသောအမွေတော်၏ဘုန်းစည်းစိမ်ကား
၁၉ အဘယ်မျှလောက်ကြီးသည်ကိုငှင်၊- ယုံကြည်သောငါတို့၌ ပြတော်မူသော အလွန်ကြီးလှစွာသောတန်ခိုးတော်ကားအဘယ်မျှလောက်ကြီးသည်ကိုငှင်၊ သင်တို့သည်သိစေခြင်းငှါ၊သင်တို့၏ညာဏ်မျက်စိကို လင်းစေပါမည် အကြောင်း
၂၀ ဆုတောင်းပဌနာပြု၏။- ထိုတန်ခိုး တော်ကား၊ ခရစ်တော်ကိုသေခြင်းမှ ထမြောက်စေတော်မူ၍ ခရစ် တော် ၌ ပြုပြင် သော မဟာ တန် ခိုး အာ နု
၂၁ ဘော် အရှိန်ကဲ့သို့ ဖြစ်၏။- ခပ်သိမ်းသော အထွဋ်အမြတ်၊အာဏာစက်၊တန်ခိုး၊ အစိုးရခြင်းမှစ၍၊ ယခုဘဝ နောင်ဘဝ၌ ခေါ်ဝေါ်သမုတ်သော ဘွဲ့နာမအလုံးစုံတို့အထက်၊ ကောင်းကင်အရပ်၌၊ မိမိလက်ျာတော် ဘက်မှာ အလွန်မြင့်မြတ်သောနေရာကို ခရစ်တော်အား ပေးတော်မူ
၂၂ ၍၊- ခြေဖဝါးတော်အောက်သို့ အလုံးစုံတို့ကိုချုပ်ထားသဖြင့်၊ အသင်းတော်အမှီအလိုငှါ၊ သူကို အလုံးစုံ တို့၏ အ ချုပ် အ ချာ ဥက္ကဋ္ဌ ဖြစ် စေ
၂၃ တော်မူ၏။- ထိုအသင်းတော်ကား၊ အလုံးစုံတို့ကို အလုံးစုံ တို့နှင့် ပြည့်စုံ စေတော်မူသော သူ၏ ပြည့်စုံခြင်း တည်းဟူသော ခရစ်တော်၏ ကိုယ် ဖြစ်သတည်း။

၂

၁ သင်တို့ သည် အထက်က လောကီ တရား သို့ လိုက်၍ အာကာသကောင်းကင်၏ တန်ခိုးကိုအစိုးရသောမင်းတည်းဟူသော၊ဗြင်းဆန်သောသူတို့၌ ပြုပြင် သော ဝိညာဉ်၏ အလိုနှင့် အညီ၊ ဒုစရိုက်အပြစ်တို့၌ကျင်လည်ကြ၍၊ ထိုဒုစရိုက်အပြစ်၌သေလျက် ရှိနေသောသင်တို့ကိုပင် ဘုရား
၃ သခင်သည် အသက်ရှင် စေတော်မူပြီ။- ထိုဗြင်းဆန်သောသူတို့နှင့်တကွ၊ ငါတို့ရှိသမျှသည် အထက်က ကိုယ်ကာယ၏ အလိုသို့ငှင်၊ စိတ်၏ အလိုသို့ငှင်လိုက်သဖြင့်၊ကာမဂုဏ်တို့၌ကျင်လည်သည်ဖြစ်၍၊ ကြွင်းသောသူတို့ကဲ့သို့ပင် ပကတိအတိုင်းအမျက်တော်ကိုခံရသောသူဖြစ်ကြ၏။-
၄ သို့သော်လည်း၊ကရုဏာတော်နှင့်ကြွယ်ဝတော်မူသော ဘုရားသခင်သည် ငါတို့ကို ချစ်တော်မူ
၅ သော မဟာမေတ္တာတော်အားဖြင့်၊- ဒုစရိုက်အပြစ်၌ သေလျက်ရှိနေသော ငါတို့ကို ခရစ်တော်နှင့်အတူ အသက် ရှင် စေ တော် မူပြီ။ ကျေးဇူးတော်ကြောင့်သာကယ်တင်ခြင်းသို့ရောက်ရ၏။-
၆ ယေရှုခရစ်အားဖြင့်၊ ငါတို့ကို ထမြောက်စေ၍
၇ ကောင်းကင်အရပ်၌ နေရာ ပေးတော်မူပြီ။- ထိုကြောင်းမူကား၊ ထိုသခင်အားဖြင့် ငါတို့၌ကျေးဇူးပြု၍၊ ကျေးဇူးတော်၏ အလွန် ကြွယ်ဝခြင်း

ကို နောင်ကပ်ကာလ တို့၌ ထင် ရှား စေ မည် အ
၈ ကြောင်း၊ဖြစ်သတည်း။-ယုံကြည်သောအား၊ဖြင့်
ကျေးဇူးတော်ကြောင့်ကယ်တင်ခြင်းသို့ ရောက်
ရ၏။ ကိုယ် အ လို အ လျောက် ရောက် သည် မ
ဟုတ်၊ ဘုရား သခင် သနား တော် မူရာ ဖြစ် သ
၉ တည်း။- ကိုယ်ကုသိုလ်ကြောင့် ကယ်တင်တော်
မူခြင်းသို့ ရောက် သည် မဟုတ်။ သို့ ဖြစ် ၍၊ အ
၁၀ ဘယ်သူမျှ ဝါကြွားစရာ အ ခွင့် မရှိ။- အဘယ်
ကြောင့်နည်းဟူမူကား၊ငါတို့သည်ကောင်းသော
အကျင့်တို့ကိုကျင့်ရမည်အကြောင်း၊ယေရှုခရစ်
၌ ပြု ပြင်၍ ဖန် ဆင်း တော် မူ ရာ ဖြစ် ကြ ၏။ ထို
ကောင်းသောအကျင့်တို့၌ ငါတို့သည်ကျင်လည်
ရမည်အကြောင်း၊ ဘုရား သခင်သည် ငါ တို့ကို
ပြင်ဆင်တော်မူနှင့်ပြီ။
၁၁ ထိုကြောင့်၊ လက်ဖြင့်ကိုယ်ကာယ၌ ပြုသော
ဝေါဟာရ အရေဖျားလှီးခြင်းကို ခံသော သူတို့
ခေါ်ဝေါ်သောအားဖြင့်၊ အရေဖျားလှီးခြင်းကိုမ
ခံသောလူဟူ၍ခေါ်ဝေါ်ကြသောသာသနာပလူ
တို့ အထဲ၌ သင်တို့သည် အထက်က ပကတိ အ
၁၂ တိုင်းဖြစ်ကြသည်ကိုရင်၊-ထိုအခါသင်တို့သည်
ခရစ်တော်ကိုမသိ၊ ဣသရေလအပေါင်းအသင်း
၌မဝင်၊ ဂတိတော်ပါသော ပဋိညာဉ်တရားတို့နှင့်
မဆိုင်၊ မျှော်လင့်ခြင်းမရှိ၊လောက၌ ဘုရားမဲ့နေ
၁၃ ကြသည်ကိုရင် အောင်းမေ့ကြလော့။- သင်တို့
သည်အထက်ကဝေးလျက်ရှိသော်လည်း၊ ယခု
မှာယေရှုခရစ်၌ဖြစ်၍အသွေးတော်အားဖြင့်အ
၁၄ နီးသို့ရောက်ကြပြီ။-အဘယ်သို့နည်းဟူမူကား၊
၁၅ ထိုသခင်သည် ငါတို့၏ရန်ငြိမ်းခြင်းအကြောင်း
ဖြစ်တော်မူ၏။ ဝိနည်း အထုံး အဖွဲ့နှင့် စပ်ဆိုင်
သောပညတ်တရားတည်းဟူသော ရန်ငြိုးဖွဲ့ခြင်း
၏အကြောင်းကို ကိုယ်ခန္ဓာတော်တွင် ပယ်ရှင်း
တော်မူသဖြင့်၊ ပိုင်းခြားလျက်ရှိသော စပ်ကြား
အုတ်တန်တိုင်း နံရံကို ဖြိုဖျက်၍ လူမျိုး နှစ်စုတို့
ကိုတစုတည်း ဖြစ်စေတော်မူ၏။ အကြောင်း မူ
၁၆ ကား၊ ရန်ကိုငြိမ်းစေပြီးလျှင်၊- ကိုယ်တော်၌ထို
လူနှစ်စုတို့ကို လူ သစ်တဦး တကိုယ်တည်း ဖြစ်
စေခြင်းငှါ ပြင်ဆင်၍၊ တလုံးတဝတည်း ဖြစ်ပြီး
သောထိုလူနှစ်စုတို့ကို၊ လက်ဝါးကပ်တိုင်တော်
အားဖြင့် ရန်ကိုသတ်ဖြတ်လျက်၊ ဘုရား သခင်
နှင့် မိဿဟာယ ဖွဲ့စေမည်အကြောင်းတည်း။-
၁၇ ထိုခရစ်တော်သည်လည်းကြွလာ၍၊ ဝေးလျက်
ရှိသော သင်တို့အားရင်၊ နီးလျက်ရှိ သော ငါတို့

အားရင်၊ ရန်ငြိမ်းခြင်းတရားတည်းဟူသော ဧ
၁၈ ဝံဂေလိ တရားကို ဟောတော်မူ၏၊- ထိုသို့ ခရစ်
တော်အားဖြင့် ငါတို့နှစ်ဦးသည် ခမည်းတော်ထံသို့ဝင်
လုံးတဝတည်းဖြစ်၍၊ခမည်းတော်ထံသို့တိုးဝင်
ရမည်အခွင့်ကိုရကြပြီ။
၁၉ ထိုကြောင့်၊သင်တို့သည်တကျွန်းတနိုင်ငံသား
မဟုတ်၊ ဧည့်သည်ထည်းမဟုတ်၊ သန့် ရှင်းသူ
တို့၏ အမျိုး သားချင်း ဖြစ်ကြ၏။ ဘုရား သခင်၏
၂၀ အိမ်တော်သား လည်း ဖြစ်ကြ၏။- အဘယ်သို့
နည်းဟူမူကား၊ တမန်တော်တို့မှစ၍ပရောဖက်
များ၊ တည်းဟူသော တိုက်မြစ်အပေါ်၌ သင်တို့
သည်ထပ်ဆင့်၍၊တည်ဆောက်လျက်ရှိကြ၏။-
၂၁ ထို တိုက် ထောင့် အမြစ် ကျောက် ကား၊ ယေရှု
ခရစ်ဖြစ်သတည်း။ ထိုကျောက်နှင့်တတိုက်လုံး
သည်စေ့စပ်၍ကြီးပွားသဖြင့်၊သခင်ဘုရားအမှို
၂၂ အလိုငှါသန့်ရှင်းသောဗိမာန်တော်ဖြစ်၏။-ထို
ဗိမာန်တော်၌ထည်း၊ဘုရားသခင်သည်ဝိညာဉ်
တော်အားဖြင့် ကျိန်းဝပ်တော်မူခြင်း အလိုငှါ၊
သင်တို့သည်ငါတို့နှင့်အတူတည်ဆောက်လျက်
ရှိကြ၏။

၃

၁ ထိုအကြောင်းကြောင့် ငါပေါလုသည် ယေရှု
ခရစ်နှင့်စပ်ဆိုင်သောအားဖြင့်အကျဉ်းခံရ၏-
၂ သင်တို့ အကျိုးကို ထောက်၍ ငါ့အား အပ်ပေး
တော်မူသော ဘုရားသခင်၏ ကျေးဇူးတော် သာ
သနာကိုသင်တို့ကြားသိရသည်နှင့်အညီ၊တပါး
အမျိုးဖြစ်သော သင်တို့ အတွက် ကြောင့် ငါခံရ
၃ ၏။- ကျေးဇူးတော်သာသနာကိုအပ်ပေးသည်
အကြောင်း ဟူမူကား၊ ငါသည် အထက်က အ
နည်းငယ်ရေးထားခဲ့သည်အတိုင်း၊ဘုရားသခင်
သည် ဗျာဒိတ်တော်အားဖြင့် နက်နဲသောအရာ
၄ ကို ငါ့အားပြတော်မူ၏။- ထိုစကားကို ဖတ်ရွတ်
လျှင်၊ ခရစ်တော်၏ နက်နဲသော အရာ၌ ငါလေ့
၅ ကျက်သည် ကိုသင်တို့သည် သိရကြမည်။- ထို
နက်နဲသောအရာကို၊သန့်ရှင်းသောတမန်တော်
တို့နှင့်ပရောဖက်တို့အား၊ ယခုကာလ၌ ဝိညာဉ်
တော်အားဖြင့် ဖွင့်လှစ်တော်မူသည်နည်းတူ၊အ
ခြားသော ကာလတို့၌ လူမျိုးတို့အား ပြတော်မ
၆ မူ။-ထိုနက်နဲသောအရာဟူမူကား၊တပါးအမျိုး
သားတို့သည် ဧဝံဂေလိတရားအားဖြင့်ယုဒအ
မျိုးသားတို့နှင့်အတူ အမွေခံ၍၊ တလုံးတဝ တ
ကိုယ်တည်းဖြစ်လျက်၊ခရစ်တော်နှင့်ဆိုင်သော

၇ ဂတိတော်ကို ဆက်ဆံရကြသတည်း။- တန်ခိုး
တော် ပြည့်စုံသော အားဖြင့် ကောင်းပေးသနား
တော်မူသော ဘုရားသခင်၏ ကျေးဇူးတော်ကို ခံ
ရသည်နှင့်အညီ၊ ထိုတရားကို ဟောပြောသော
၈ ဆရာ၏အဖြစ်သို့ ငါရောက်ရပြီ။-စစ်၍မကုန်နိုင်
၉ သော ခရစ်တော်၏ ကြွယ်ဝပြည့်စုံခြင်း၏ ဧဝံ
ဂေလိတရားကိုတပါးအမျိုးသားတို့အား ဟော
ပြောခြင်းငှါ၎င်း၊ အလုံးစုံတို့ကိုယေရှုခရစ်အား
ဖြင့်ဖန်ဆင်းတော်မူသောဘုရားသခင်၌ ရှေးကပ်
ကာလပတ်လုံး ဖုံးကွယ်လျက်ရှိသော၊ ထိုနက်
နဲသောအရာနှင့်စပ်ဆိုင်သောသာသနာသည်အ
ဘယ်သို့ ဖြစ်သည်ကို လူအပေါင်းတို့အား ထင်
ရှားစေခြင်းငှါ၎င်း၊ သန့်ရှင်းသူအပေါင်းတို့တွင်
အငယ်ဆုံးသော သူထက် သာ၍ ငယ်သော င
၁၀ အား ထိုကျေးဇူးတော်ကို ပေးတော်မူပြီ။- အ
၁၁ ဘယ်ကြောင့်နည်းဟူမူကား၊ ငါတို့သခင်ယေရှု
ခရစ်ကိုအကြောင်းပြု၍၊ ထာဝရအကြံတော်ရှိ
သည်နှင့်အညီ၊ ကောင်းကင်အရပ်တို့၌ အထွဋ်
အမြတ် အာဏာစက် တို့သည်၊ ဘုရားသခင်၏
ထူးဆန်းသောပညာတော်ကိုအသင်းတော်အား
၁၂ ဖြင့် ယခုသိရကြမည် အကြောင်းတည်း။- ထို
သခင်ကို ယုံကြည်ခြင်းအားဖြင့် ငါတို့သည် ရဲ
ရင့်သောစိတ်နှင့် တိုးဝင်၍၊ အသနားတော်ခံရ
၁၃ သောအခွင့်ကိုရကြပြီ။- ထိုကြောင့်၊ သင်တို့၏
အသရေကိုပြုစု၍ သင်တို့အတွက်ကြောင့်ငါခံရ
သော ဆင်းရဲခြင်းကို မြင်လျှင်၊ ရွံ့လျော့သော
စိတ်မရှိကြပါစေနှင့်။
၁၄ အထက် ဆိုခဲ့ပြီးသော အကြောင်းကြောင့်၊
၁၅ ကောင်းကင်ပေါ်၊ မြေကြီးပေါ်မှာရှိသောတအိမ်
ထောင်လုံးတည်းဟူသော သားတော် အပေါင်း
တို့၏အချုပ်အချာဖြစ်တော်မူသော၊ငါတို့သခင်
ယေရှုခရစ်၏ ခမည်းတော်ရှေ့မှာ ငါသည် ဒူး
၁၆ ထောက်၍ဆုတောင်းလေ့ရှိ၏။ ဆုတောင်းသော
အချက်ဟူမူကား၊ ဝိညာဉ်တော်အားဖြင့်သင်တို့
၁၇ ၏အတွင်းလူကိုခွန်အားနှင့်မြဲမြံခိုင်ခံ့စေ၍၊- ယုံ
ကြည်ခြင်းအားဖြင့် ခရစ်တော်သည် သင်တို့၏
စိတ် နှလုံးအထဲ၌ ကျိန်းဝပ်တော်မူမည် အ
ကြောင်း၊၊ ဘုန်းတော်ကြွယ်ဝပြည့်စုံခြင်းနှင့်ညီ
လျော်စွာ သင်တို့အား ပေးသနားတော်မူ၍၊
မေတ္တာ၌မြိုက်မြုံခြင်း၊ တိုက်မြစ်လည်း ကျတည်
၁၈ ခြင်းရှိသဖြင့်၊-သင်တို့သည်သန့်ရှင်းသူအပေါင်း
တို့၏ နည်းတူ၊ အနံ အလျား အနက် အမြင့်တို့ကို

၁၉ ပိုင်းခြား၍ သိခြင်းငှါ၎င်း၊- ကိုယ်ဉာဏ်နှင့် မ
သိနိုင်သောခရစ်တော်၏မေတ္တာတော်ကိုသိနား
လည်ခြင်းငှါ၎င်း၊ သင်တို့သည်တတ်စွမ်းနိုင်သ
ဖြင့်၊ ဘုရားသခင်၏ ပြည့်စုံတော်မူခြင်း ရှိသမျှ
နှင့်အညီပြည့်စုံကြပါမည်အကြောင်း၊၊ ငါသည်
၂၀ ဆုတောင်းလေ့ရှိ၏။- ငါတို့၌ပြုပြင်သောတန်ခိုး
တော်အတိုင်း၊ ငါတို့ တောင်းပန်ကြံစည်သမျှ
ထက် အလွန် ထူးခြားစွာ ပြုခြင်းငှါတတ်နိုင်
၂၁ တော်မူသော ဘုရားသခင် သည်၊- ယေရှုခရစ်
အားဖြင့် အသင်းတော်၌ ကမ္ဘာ အဆက်ဆက်
ဘုန်းကြီးတော်မူစေသတည်း။ အာမင်။

၄

၁ ခေါ်တော်မူခြင်း ကျေးဇူးတော်ကို သင်တို့
သည် ခံရသည်နှင့် အထိုက် အလျောက် ကျင့်
ဆောင်မည် အကြောင်း၊ သခင်ဘုရား အတွက်
ကြောင့် အကျဉ်းခံရသော ငါသည် သင်တို့ကို
၂ တိုက်တွန်းနှိုးဆော်ပါ၏။- အရာရာ၌ စိတ်နှိမ့်
ချခြင်း၊ နူးညံ့သိမ်မွေ့ခြင်း၊ စိတ်ရှည်ခြင်းနှင့်
ပြည့်စုံသဖြင့်၊မေတ္တာစိတ်နှင့် တယောက်ကိုတ
၃ ယောက် သည်းခံခြင်းရှိကြ၍၊- အသင့်အတင့်
ပေါင်းဖော်ခြင်း အဖွဲ့အစည်းအားဖြင့်၊ သင်တို့
သည် အချင်းချင်း စိတ်သဘော မခြားမနားတ
လုံးတဝတည်း ဖြစ်အံ့သောငှါ ကြိုးစားအား
၄ ထုတ်ကြလော့။- သင်တို့ကိုခေါ်တော်မူခြင်းနှင့်
စပ်ဆိုင်သော မျှော်လင့်ခြင်း တပါးထဲသို့ ခေါ်
သွင်းတော်မူသည်နှင့်အညီ၊ ကိုယ်တကိုယ်၊
၅ ဝိညာဉ်တဝိညာဉ်တည်းရှိ၏။- သခင်တပါး၊ယုံ
၆ ကြည်ခြင်းတပါး၊၊ နှစ်ခြင်းတပါး၊၊- ခပ်သိမ်း
သော ငါတို့၏ အဖဖြစ်သော ဘုရားသခင်တဆူ
တည်းရှိတော်မူ၏။ ထိုဘုရားသခင်သည် ခပ်
သိမ်းသော ငါတို့၏ အပေါ်မှာ ရှိတော်မူ၏။ ခပ်
သိမ်းသော ငါတို့ကို နှံ့ပြားတော်မူ၏။ ခပ်သိမ်း
၇ သော ငါတို့၏ အထဲ၌သည်၊ ရှိတော်မူ၏။- သို့
သော်လည်း၊ ခရစ်တော်သည် ဆုပေးတော်မူ
သည် အတိုင်း ငါတို့သည် ကျေးဇူးတော်ကို အ
၈ သီးအသီး ကိုယ်စီ ခံရကြပြီ။- ထိုသို့နှင့် အညီ၊
ကျမ်းစာ၌ လာသည်ကား၊ မြင့်သော အရပ်သို့
တက်ကြွတော်မူသဖြင့်၊ များစွာသော သူတို့ကို
ဖမ်းသွားတော်မူ၍၊ လူတို့အား ဆုလပ်များကို
၉ ပေးတော်မူသည်ဟု လာသတည်း။- တက်ကြွ
တော်မူသည်ဟု ဆိုသော်၊ အစစွာ မြေကြီး
အောက်အရပ်သို့ဆင်းသက်တော်မူကြောင်းကို



 

၁၀ ရည်မှတ်၍ ဆိုသည်မဟုတ်သော။- ဆင်းသက်
တော်မူသော သူသည် အခြားသော သူမဟုတ်၊
အထုံးစုံတို့ကိုပြည့်စုံစေခြင်းငှါ၊ ခပ်သိမ်းသော
ကောင်းကင်တို့၏ အထွဋ် ကို လွန်၍ တက်ကြွ
တော်မူသောသူဖြစ်သတည်း။
၁၁ ခရစ်တော်၏ကိုယ်တော်ကို တည်ဆောက်၍၊
၁၂ ဓမ္မဆရာ၏အမှုကိုပြုတတ်မည်အကြောင်း၊ သန့်
ရှင်းသူတို့ကိုပြုင်ဆင်ခြင်းအလို့ငှါ၊ ထိုသခင်သည်
လူအချို့တို့ကို တမန်တော် အရာ၌၎င်း၊ အချို့တို့
ကိုပရောဖက်အရာ၌၎င်း၊ အချို့တို့ကိုသာသနာပြု
အရာ၌၎င်း၊ အချို့တို့ကိုသင်းအုပ်အရာ၊ ဆရာအ
၁၃ ရာ၌၎င် ခန့်ထားတော်မူ၏။- ငါတို့ရှိသမျှသည်
ယုံကြည်ခြင်းသို့၎င်၊ ဘုရားသခင်၏သားတော်
ကို သိကျွမ်းခြင်းသို့၎င်၊ တညီတညွတ်တည်း
ရောက်၍ ခရစ်တော်၏ ပြည့်စုံခြင်း ပမာဏအ
ရပ်တည်းဟူသော၊ ကြီးရင့်သောလူ၏အဖြစ်သို့
၁၄ ရောက်ကြသည်တိုင်အောင် ဖြစ်သတည်း။- အ
ကြောင်းမူကား၊ သူတပါးတို့သည်လူပရိယာယ်
နှင့် အပြစ် သို့ သွေး ဆောင် ခြင်း ငှါ လှည့် ဖြား
ပြောဆိုသဖြင့်၊ ငါတို့သည်နောက်တဖန်ခပ်သိမ်း
သောဩဝါဒလေတိုက်၍ဖရိုဖရဲလွင့်သွားသော
၁၅ သူငယ် မဖြစ်ဘဲလျက်၊- မေတ္တာစိတ်နှင့် သမ္မာ
တရားကို ဟောပြောသဖြင့်၊ ဦးခေါင်းတည်း
ဟူသောခရစ်တော်မှာအရာရာတို့၌ ကြီးပွားကြ
၁၆ မည်အကြောင်းတည်း။- ထိုဦးခေါင်းမှ၊ အဆစ်
အပိုင်းများတို့သည် အားဖြည့်သဖြင့်၊ တကိုယ်
လုံးသည်စေ့စပ်ထုံးဖွဲ့လျက်၊ အသီးအသီးအင်္ဂါ
များကိုယ်ငန်းကိုယ်တာအတိုင်းပြုပြင်သည်နှင့်
အညီ၊ မိမိကိုယ်ကိုမေတ္တာ၌တည်ဆောက်ခြင်း
ငှါကြီးပွားစေတတ်၏။
၁၇ ထိုကြောင့်၊ ကြွင်းသော တပါးအမျိုးသားတို့
သည်လျှပ်ပေါ်သောစိတ်နှင့်ကျင့်သည်နည်းတူ၊
• သင်တို့သည်နောက်တဖန်မကျင့်မည်အကြောင်း
၁၈ သခင်ဘုရားအခွင့်နှင့်ငါမှာလိုက်၏။- ထိုသူတို့
သည် ဉာဏ်အလင်း ကွယ်သည် ဖြစ်၍၊ စိတ်
နှစ်လုံးမိုက်မဲသောအားဖြင့် အလျှင်းမသိသော
ကြောင့်၊ ဘုရားသခင်၏ အသက် နှင့် ကွာ ရှင်း
၁၉ လျက်ရှိကြ၏။-ထိုသူတို့သည်ရှက်ကြောက်ခြင်း
မရှိ၊ တပ်မက်ခြင်းအလွန်ပြင်းသည်နှင့်ညစ်ညူး
သော အကျင့် အမျိုးမျိုးကို ကြိုးစား၍ ကျင့်လို
သောငှါ၊ မိမိတို့ကို ကိလေသာလက်သို့ အပ်
၂၀ လိုက်ကြ၏။- ထိုသို့ဖြစ်စေခြင်းငှါ သင်တို့သည်

၂၁ ခရစ်တော်တရားကိုသင်ကြပြီ မထုတ်ဘဲ။- အ
၂၂ ထက်ကကျင်လည်ကြသည့် အရာမှာလှည့်ဖြား
၂၃ တတ်သောလောဘစိတ်၌ဖြင့်ပုပ်ပွတ်သောလူ
၂၄ ဟောင်းကို ချွတ် ပယ်၍၊ စိတ် နှစ်လုံး သစ်သော
သစ်ကိုရပြီ၊ လျှောင်းမှန်သောဖြောင့်မတ်ခြင်းသန့်
ရှင်းခြင်း ပါရမီအား၊ ဖြင့် ဘုရားသခင်နှင့် အလို
အမှုစနိဆင်းသော လူသစ်ကိုယူတင်ဝတ်ဆောင်
မည် အကြောင်း၊ ခရစ်တော်၏ စကားကို ကြား
နာရသည် ဖြစ်၍၊ ယေရှု၌သမ္မာတရားရှိသည်
နှင့်အညီ၊ ထိုသခင်ထံ၌နည်းခံကြပြီသတည်း။
၂၅ ထိုကြောင့်၊ မုသားစကားကို ပယ်ရှား၍၊ မှန်
သော စကား ကိုသာ အချင်းချင်း တယောက်နှင့်
တယောက် ပြောကြလော့။ အကြောင်းမူကား
၂၆ ငါတို့သည်အချင်းချင်းအင်္ဂါချင်းဖြစ်ကြ၏။- အ
၂၇ မျက်ထွက်ရာတွင် အပြစ်မရှိစေနှင့်။- အမျက်မ
ပြေဘဲနေမဝင်စေနှင့်။ မာရ်နတ်ကို အခွင့်မပေး
၂၈ ကြနှင့်။- ခိုးတတ်သောသူသည်နောက်တဖန်မ
ခိုးဘဲ၊ ဆင်းရဲသောသူအား ပေးကမ်းဝေငှရမည့်
စေခြင်းငှါ၊ မိမိလက်နှင့်ကောင်းသောအလုပ်ကို
၂၉ လုပ်ဆောင်အားထုတ်စေ။-ညစ်ညူးသောစကား
တခွန်းကိုမျှ သင်တို့ နှုတ်ထဲက မထွက် စေနှင့်။
ကြားနာသောသူတို့၏အကျိုးကိုပြုစေခြင်းငှါ၊
တည်ဆောက်စေရာသို့ ကောင်းသော စကား ကို
၃၀ သာသုံးဆောင်ကြလော့။-ရွေးနှုတ်ခြင်းနေ့ရက်
တိုင်အောင်သင်တို့ကို တံဆိပ်ခတ်တော်မူသော
ဘုရားသခင်၏ သန့်ရှင်းသော ဝိညာဉ် တော်ကို
၃၁ စိတ်မနာစေကြနှင့်။-ခပ်သိမ်းသောစိတ်ထိုခြင်း
စိတ်ဆိုးခြင်း၊ အမျက် ထွက် ခြင်း၊ အော်ထဲ
ငေါက်ငေါ်ခြင်း၊ သူတပါးရေ ဖွက်ဆောင် ပြော
ဆိုခြင်းတို့ကို၎င်း၊ ခပ်သိမ်းသောမနာလိုခြင်းကို
၃၂ ၎င်း၊ သင်တို့မှ ပယ်ရှားကြလော့။- အချင်းချင်း
ကျေး၊ ရူးပြုခြင်း၊ သနားစုံမက်ခြင်း၊ ဘုရားသခင်
သည် ခရစ်တော်ကြောင့် သင် တို့၏ အပြစ်ကို
လွှတ်တော်မူသကဲ့သို့၊ အချင်းချင်း အပြစ်လွှတ်
ခြင်းရှိကြလော့။

၅

၁ ထိုသို့သင်တို့သည်ဘုရားသခင်၏ချစ်သားဖြစ်
ကြသည်နှင့်အညီ၊ ဘုရားသခင် ကျင့်တော်မူ
၂ သည့်နည်းတူကျင့်ကြလော့။- ခရစ်တော်သည်
ငါတို့ကိုချစ်တော်မူသောအားဖြင့်၊ ဘုရားသခင်
ရှေ့တော်၌ မွှေးကြိုင်သော အနံ့ရှိစေခြင်းငှါ၊
ကိုယ်ကို ကိုယ်ဆက်ကပ်၍ ထာဝရပူဇော်တော်မူ၏။

ဝါ၊ ထိုအမွှေးအကြိုင်နံ့တော်မှုသည်နည်းတူ၊ သင်တို့
အချင်းချင်းအတွက်ကြောင့်ကျင့်ကြလော့။
၃ မတရားသောမေထုန်မှီဝဲခြင်း၊ အမျိုးမျိုးသော
ကိလေသာညစ်ညူးခြင်း၊ လောဘလွန်ကျူးခြင်း
အမှုတို့ကိုသန့်ရှင်းသူတို့သည် ရှောင်သင့်သည်
၄ အတိုင်း၊ စကား ဖြင့်မျှ မဆက်ဆံ ကြ နှင့်။– မ
တော်မလျော်သော ညစ်ညူးပျက်ပြယ် ပျက်ရယ်
သောစကားများကိုထဉ်းပယ်၍ ကျေးဇူးတော်
၅ ချီးမွမ်းခြင်း စကားကို သုံးကြလော့။– မတရား
သောမေထုန်၌မှီဝဲသောသူ၊ ညစ်ညူးစွာပြုသော
သူ၊ ရုပ်တုကို ကိုးကွယ်သောသူဖြစ်သောလော
ဘ လွန်ကျူး သောသူ တစုံ တယောက်မျှ ခရစ်
တော်နှင့်ဘုရားသခင်၏နိုင်ငံ၌ အမွေမခံရသည်
၆ ကိုသင်တို့သိကြ၏။– လျှပ်ပေါ်သော စကားဖြင့်
အဘယ်သူမျှ သင်တို့ကို မလှည့်ဖြားစေနှင့်။ ထို
အမှုကြောင့် ဘုရားသခင်၏ အမျက် တော်သည်
ငြင်းဆန်တတ်သောသူတို့အပေါ်သို့ သင့်ရောက်
၇ ပေ၏။– ထိုကြောင့်၊ သူတို့နှင့်ဆက်ဆံ၍ မကျင့်
၈ ကြနှင့်။ အထက် ကာလ၌ သင်တို့ သည် မှောင်
မိုက်အတိဖြစ်ကြ၏၊ ယခုမူကား၊ သခင်ဘုရား၌
အလင်းဖြစ်ကြ၏၊ သို့ဖြစ်၍၊ အလင်း၏သားကဲ့
၉ သို့ကျင့်နေကြလော့။– အလင်းတော်၏အကျိုးမူ
ကား၊ အလုံးစုံသော ကောင်း မွန်ခြင်း၊ ဖြောင့်
၁၀ မတ်ခြင်း၊ သစ္စာစောင့်ခြင်းဖြစ်သတည်း။–သခင်
ဘုရားနှစ်သက်တော်မူသောအရာသည် အဘယ်
၁၁ အရာ ဖြစ်သည်ကို သင်ကြ လော့။– အကျိုးမဲ့
သောမှောင်မိုက်အမှုတို့နှင့် မဆက်ဆံသည်သာ
၁၂ မက၊ ထိုအမှုတို့၏ အပြစ်ကို ပြကြ လော့။– အ
ကြောင်းမူကား၊ သူတို့သည် ဆိတ်ကွယ်ရာ၌ပြု
သော အမှုအရာတို့ကို စကားပြောကာမျှ၌ ညစ်
၁၃ ညူးခြင်းပါသော်၏။–အပြစ်ထင်ရှားသောအရာ
ရှိသမျှတို့သည်အလင်းဖြင့်ထင်ရှားကြ၏၊ ထင်
ရှားစေတတ်သော အရာရှိသမျှသည်လည်း အ
၁၄ လင်းဖြစ်၏။– ထိုကြောင့်၊ အိပ်ပျော်သောသူ၊ နိုး
လော့၊ သေခြင်းမှ ထမြောက်လော့၊ သို့ပြုလျှင်၊
ခရစ်တော်သည် အလင်းကိုသင့်အား ပေးတော်
မူမည်ဟုဆိုသတည်း။
၁၅ ထိုကြောင့်၊ ပညာမဲ့ကဲ့သို့မဟုတ်၊ ပညာရှိကဲ့
သို့ စေ့စေ့မြဲမြဲကျင့်ဆောင်မည်အကြောင်း သ
၁၆ တိပြုကြလော့။–ယခုနေ့ရက်ကာလတို့သည်ဆိုး
ယုတ်သောကြောင့် ကာလ အချိန်ကို ရွေးနှုတ်
၁၇ ကြလော့။– ထိုကြောင့်၊ သတိမရှိသောသူမဖြစ်၊
သခင်ဘုရား၏အလိုတော်ရှိရာကို ပိုင်းခြား၍သိ
၁၈ သောသူဖြစ်ကြလော့။–လွန်ကျူးစေတတ်သော
စပျစ်ရည်နှင့် ယစ်မူးခြင်းကို ရှောင်၍၊ ဝိညာဉ်
၁၉ တော်နှင့် ပြည့်စုံလျက် ရှိကြလော့။– ဆာလံ သီ
ချင်း၊ မှစသောဓမ္မသီချင်းအမျိုးမျိုးတို့ကို အချင်း
ချင်းပြောဆိုဖတ်ရွတ်၍၊ နူးညွတ်သော စိတ်နှစ်
လုံးနှင့် သခင်ဘုရားရှေ့တော်၌ကျူး၍ သီခြင်း
၂၀ ဆိုကြလော့။–ခပ်သိမ်းသောအရာတို့၌ကျေး ဇူး
တော်ကြီး လှပါ၏ဟု၊ ငါတို့သခင် ယေရှုခရစ်၏
နာမ တော် ကို ထောက်၍၊ ခမည်း တော် ဘုရား
သခင်ရှေ့၊ ကာလ အစဉ်မပြတ်ဝန်ခံကြလော့။
၂၁ ခရစ်တော်ကိုခန့်ညားသောအားဖြင့်၊ အချင်း
ချင်း တယောက်အောက်တယောက်၊ ကိုယ်ကို
၂၂ နှိမ့်ချလျက်နေကြလော့။– အချင်းမိန်းမတို့၊ သခင်
ဘုရား၏ အုပ်စိုးတော်မူခြင်းကို ဝန်ခံ သကဲ့သို့၊
ကိုယ်ခင်ပွန်း၏ အုပ်စိုးခြင်းကိုဝန်ခံကြလော့။–
၂၃ အကြောင်း မူ ကား၊ ခရစ် တော် သည် အသင်း
တော်၏ အပေါ်မှာ ခေါင်း ဖြစ်တော် မူသကဲ့ သို့၊
ယောက်ျားသည် မိမိခင်ပွန်း၏အပေါ်မှာ ခေါင်း
ဖြစ်၏။ ခရစ်တော်သည်ထည်းမိမိကိုယ်ကိုကယ်
၂၄ တင်သောသူဖြစ်တော်မူ၏။–အသင်းတော်သည်
ခရစ်တော်၏ အုပ်စိုးတော်မူခြင်းကို ဝန်ခံသကဲ့
သို့၊ မိန်းမတို့လည်း ကိုယ်ခင်ပွန်း၏အုပ်စိုးခြင်းကိုအ
၂၅ ရာရာ၌ဝန်ခံရကြမည်။– အချင်းယောက်ျားတို့၊
ခရစ်တော်သည်အသင်းတော်ကိုချစ်တော်မူသကဲ့
သို့၊ သင်တို့လည်း ကိုယ်ခင်ပွန်းကိုချစ်ကြလော့။–
၂၆ ထိုအသင်းတော်သည်သန့်ရှင်းလျက်ဖြစ်ကင်း
၂၇ လျက်ရှိသည်ဖြစ်၍၊ အညစ်အကြေးတင်ခြင်း၊ အ
ရေတွန့်ခြင်းမှစသည်တို့နှင့်လွတ်လပ်သဖြင့်၊ အ
သရေ တင့်တယ်လျက်ရှိသော အသင်းတော်ကို
ခရစ်တော်သည် မိမိအား ဆက်သ အံ့သော ငှါ၊
နှုတ်ကပတ်တော်ရေ၌ဆေးကြောခြင်းအားဖြင့်
စင်ကြယ် သန့်ရှင်း စေမည် အကြောင်း၊ ထိုအ
သင်းတော်အဖို့အလိုငှါကိုယ်ကိုကိုယ်စွန့်တော်
၂၈ မူ၏။ ထိုနည်းတူ၊ ယောက်ျားတို့သည်မိမိကိုယ်
ကိုချစ်သကဲ့သို့၊ မိမိခင်ပွန်းတို့ကို ချစ်ရကြမည်၊
ခင်ပွန်းကို ချစ်သောသူသည် ကိုယ်ကိုချစ်သော
၂၉ သူဖြစ်၏။– ကိုယ်အသားကို မုန်းသော သူ တ
ယောက်မျှမရှိ၊ ခရစ်တော် သည် အသင်းတော်
ကိုကျွေးမွေးပြုစုတော်မူသကဲ့သို့၊ ခပ်သိမ်းသော
သူတို့သည်မိမိတို့အသားကိုကျွေးမွေးပြုစုတတ်
၃၀ ကြ၏။–အကြောင်းမူကား၊ ငါတို့သည်သခင်ဘုရား၏

အသားတော်အရိုးတော်တို့အဝင်ဖြစ်၍၊ ကိုယ်
၃၁ တော်မြတ်၏အင်္ဂါဖြစ်ကြ၏။- ထိုအကြောင်း
ကြောင့် ယောကျ်ားသည် ကိုယ်မိဘကို စွန့်၍
ကိုယ်ခင်ပွန်း၌ မှီဝဲသဖြင့်၊ ထိုသူနှစ်ယောက်တို့
သည် တသားတကိုယ်တည်း ဖြစ်ရလိမ့်မည်။-
၃၂ ဤအရာသည်အလွန်နက်နဲသောအရာဖြစ်ပေ၏။
ထိုသို့ငါဆိုသော်၊ ခရစ်တော် နှင့် အသင်းတော်
၃၃ ကိုရည်မှတ်၍ဆိုသတည်း။- သို့ရာတွင်၊ သင်တို့
သည် အသီးအသီး ကိုယ်ကို ကိုယ်ချစ် သကဲ့သို့
ကိုယ်ခင်ပွန်းကို ချစ်ကြလော့။ မိန်းမ သည်လည်း
ကိုယ်ခင်ပွန်းကို ရိုသေခြင်းရှိစေလော့။

၆

၁ သားသမီးတို့၊ သခင်ဘုရား၏အလိုတော်နှင့်အ
ညီ၊ မိဘ စကားကို နား ထောင် ကြလော့။ မိဘ
စကားကိုနားထောင်ခြင်းအမှုသည်တရားသော
၂၊၃ အမှုဖြစ်၏။- မိဘကို ရိုသေစွာ ပြုလော့။- ဤ
ပညတ်တော်ကား၊သင်သည်ပြည့်စုံ၍ကောင်း
စား၍အသက်တာရှည်မည်အကြောင်းဟူ၍ဂတိ
၄ တော်နှင့်ဆိုင်သောပဌမပညတ်ဖြစ်၏။- အဘတို့၊
ကိုယ်သားသမီးကိုစိတ်ဆိုးစေခြင်းငှါမပြုကြနှင့်။
သခင်ဘုရား၏ အလိုတော်နှင့်ညီသော ဆုံးမသွန်
သင်ခြင်းကိုပြုလျက်ကျွေးမွေးကြလော့။
၅ အစေခံကျွန်တို့၊ ခရစ်တော် ၏ စကားကို နား
ထောင်သ ကဲ့သို့၊ ကြောက်ရွံ့ တုန် လှုပ် လျက်၊
စိတ်နှစ်ခွမရှိဘဲ၊ လောကီသခင်၏စကားကိုနား
၆ ထောင်ကြလော့။- လူတို့၏ စိတ်ကို နှိုးဆွတ် စေ
သောသူကဲ့သို့၊မျက်မှောက်၌သာနားထောင်သည်
မဟုတ်၊ ခရစ်တော်၏ ကျွန် ကဲ့ သို့၊ စေတနာစိတ်
၇ နှင့်ဘုရားသခင်၏အလိုတော်ကိုစောင့်၍၊- လူ၏
အစေကိုသာခံသကဲ့သို့မဟုတ်၊ သခင်ဘုရား၏
အစေကို ခံသကဲ့သို့၊ ကြည်ညိုသော သဘောနှင့်
၈ အစေကိုခံကြလော့။- ကောင်းသော အကျင့်ကို
ကျင့်သော သူ မည်သည်ကား၊ ကျွန်ဖြစ်စေ၊ လူ
လွတ်ဖြစ်စေ၊သခင်ဘုရား၏လက်တော်မှအကျိုး
၉ ကိုခံရလိမ့်မည်ဟုသိမှတ်ကြလော့။- သခင်တို့၊
ခြိမ်းခြောက်ခြင်းကို ချုပ်တည်း၍၊ ကိုယ်ကျွန်
တို့ကို ထိုနည်းတူ ပြုကြလော့။ သင်တို့၏ သခင်
သည်ကောင်းကင်ဘုံ၌ရှိတော်မူသည်ကိုငှင်၊ထို
သခင်သည် အဘယ်သူ၏ မျက်နှာကို မှတ်တော်
မမူသည်ကိုငှင်သိမှတ်ကြလော့။
၁၀ ကြွင်းသေးသောစကားဟူမူကား၊ ညီအစ်ကို
တို့၊ သခင်ဘုရား အားဖြင့်၎င်း၊ တန်ခိုးတော်အ
၁၁ နှိန်အားဖြင့်၎င်းခိုင်ခံ့ခြင်းရှိကြလော့။-မာရ်နတ်
၏ပရိယာယ်တို့ကို ဆီးတားနိုင်မည်အကြောင်း၊
ဘုရားသခင် ပြင်ဆင်တော် မူ သော လက်နက်စုံ
၁၂ ကို ဝတ်ဆောင် ကြလော့။- အကြောင်းမူကား၊
ငါတို့သည် အသွေးအသားရှိသောရန်သူတို့နှင့်
ဆိုင်ပြိုင် တိုက်လှန်ရကြသည်မဟုတ်။ အထွဋ်
အမြတ်တို့နှင့်၎င်း၊အာဏာစက်တို့နှင့်၎င်း၊လော
ကီ မှောင်မိုက်၌ အစိုးတရ ပြုလုပ်သော မင်းတို့
နှင့်၎င်း၊မိုဃ်းကောင်းကင်၌နေသောနတ်ဆိုးတို့
၁၃ နှင့်၎င်းဆိုင်ပြိုင်တိုက်လှန်ရကြ၏။-ထိုကြောင့်၊ခဲ
ယည်းဆိုးယုတ်သောနေ့ရက်ကာလ၌ဆီးတား
နိုင်သဖြင့်၊ ကိစ္စအလုံးစုံတို့ကိုပြီးစီး၍ခံရပ်နိုင်
မည်အကြောင်း၊ ဘုရားသခင် ပြင်ဆင်တော်မူ
၁၄ သောလက်နက်စုံကိုယူဆောင်ကြလော့။-သစ္စာ
တည်းဟူသော ခါးပန်းကို စည်းလျက်၊ ဖြောင့်
မတ်ခြင်းပါရမီတည်းဟူသောရင်အုပ်တန်ဆာ
၁၅ ကိုဝတ်ဆင်လျက်၊-ငြိမ်သက်ခြင်းနှင့်ရှည်သော
ဧဝံဂေလိတရားကိုဟောပြောအံ့သောငှါပြင်ဆင်
သောအဖြစ်တည်းဟူသောခြေနင်းကိုစွပ်လျက်
၁၆ ခံရပ်ကြလော့။- မာရ်နတ်ပြစ်ခတ်သောမီးစက်
လက်နက်ကို ကာသတ် နိုင်သော ယုံကြည် ခြင်း
တည်းဟူသော လွှားကိုလည်း၊ ခပ်သိမ်းသော
လက်နက်တို့အပေါ်မှာထပ်ဆင့်၍ယူဆောင်ကြ
၁၇ လော့။-ကယ်တင်ခြင်းတည်းဟူသောသံခမောက်
လုံးကို၎င်း၊ဘုရားသခင်၏နှုတ်ကပတ်တည်းဟူ
သော ဝိညာဉ်တော်၏ထားကို၎င်း ယူကြလော့။-
၁၈ ကာလအစဉ်စိတ်နှစ်လုံးပါလျက်၊ ဆုတောင်း
ပဌနာ ပြုခြင်းအမျိုးမျိုး တို့ဖြင့် ဆုတောင်း ကြ
လော့။ ထိုသို့ဆုတောင်းခြင်းငှါ အားမလျှော့ဘဲ
လျက်၊ ငါမှစ၍သန့်ရှင်းသူအပေါင်းတို့အဘို့ဆု
၁၉ တောင်းလျက်စောင့်ရှောက်ကြလော့။-ငါသည်
၂၀ ဧဝံဂေလိတရားကြောင့် သံကြိုးနှင့် ချည်နှောင်
ခြင်းကိုခံလျက်၊ သံတမန်အမှုကို ပြုရသည်ဖြစ်
၍၊ထိုတရား၏နက်နဲသော အရာကို ဖော်ပြခြင်း
ငှါ ငါသည်နှုတ်ကို ရဲရင့်စွာဖွင့်လှစ်ခြင်း၊ အခွင့်
ရှိမည် အကြောင်း ကို၎င်း၊ ထို တရားကို ဟော
ပြော အပ်သည် နှင့် အညီ၊ ရဲရင့်စွာ ဟောပြော
မည်အကြောင်းကို၎င်း၊ ငါ့အဘို့လည်းဆုတောင်း
ကြလော့။
၂၁ သင်တို့သည် ငါ၌ ဖြစ်သော အကြောင်းအရာ
များကိုသိစေခြင်းငှါ၊ သခင်ဘုရား၌ သစ္စာရှိ
သောဆရာတည်းဟူသော၊ငါချစ်သောညီတုခိတ်

သည် အလုံးစုံတို့ကို သင်တို့အား ဖော်ပြလိမ့်
၂၂ မည်။- သင်တို့သည်ငါတို့၏အကြောင်းအရာများ
ကိုသိမည်အကြောင်းနှင့်၊ ထိုသူသည်သင်တို့စိတ်
နှလုံးကိုသက်သာစေမည်အကြောင်း၊ ထိုသူကို
၂၃ သင်တို့ဆီသို့ငါစေလွှတ်၏။- ညီအစ်ကိုတို့၌ငြိမ်
သက်ခြင်းရှိပါစေသော။ ခမည်းတော်ဘုရားနှင့်
သခင်ယေရှုခရစ်ပေးတော်မူသောယုံကြည်ခြင်း
၂၄ နှင့်ချစ်ခြင်း မေတ္တာရှိပါစေသော။- ငါတို့ သခင်
ယေရှုခရစ်ကို အမှန်ချစ်သော သူအပေါင်းတို့၌
ကျေးဇူးတော်ရှိစေသတည်း။ အာမင်။

ဧဖက်ဩဝါဒစာပြီး၏။

---

# ဖိလိပ္ပိဩဝါဒစာ။

## PHILIPPIANS.

၁

၁ ယေရှုခရစ်၏ကျွန်ဖြစ်သောပေါလုနှင့်တိမောထေ
သေသည်၊ ဖိလိပ္ပိမြို့၌ ရှိသော သင်းအုပ်တို့နှင့်
သင်းထောက်တို့မှစ၍၊ ယေရှုခရစ်၏သန့်ရှင်းသူ
၂ အပေါင်းတို့ကို ကြားလိုက်ပါ၏။- သခင်ယေရှု
ခရစ်နှင့်ငါတို့ အဘတည်းဟူသော ဘုရားသခင်
အထံတော်က ကျေးဇူးတော်နှင့် ငြိမ်သက်ခြင်း
သည်သင်တို့၌ရှိပါစေသော။
၃ ငါသည် ဆုတောင်းပဌနာ ပြုသော အခါခါ၊
၄ ဝမ်းမြောက်သောစိတ်နှင့် သင်တို့ရှိသမျှအဖို့ကို
၅ အစဉ် ဆုတောင်းပဌနာ ပြုလျက်၊ သင်တို့ကို
အောက်မေ့သော အခါခါ၊ သင်တို့သည် ရှေးဦး
စွာသောနေ့ရက်မှစ၍ယခုတိုင်အောင် ဧဝံဂေလိ
တရားကိုဆက်ဆံ၍ခံစားကြောင်းကိုငါထောက်
သဖြင့်၊ ဘုရားသခင်၏ ကျေးဇူးတော်ကိုချီးမွမ်း
၆ ပါ၏။- သင်တို့တွင် ကောင်းသောအမှုကို ပြုစပြု
တော်မူသောသူသည်၊ ယေရှုခရစ်၏နေ့ရက်တိုင်
အောင် ပြီးစီးလျက် ပြုတော်မူမည်ဟု ငါသ
၇ ဘောကျ၏။- ရှိသမျှသောသင်တို့၏ အမှုအရာ၌
ဤသို့ ငါယူအပ်၏။ အကြောင်းမူကား၊ ငါ ခံရ
သော ကျေးဇူးတော်ကို သင်တို့ အပေါင်းသည်
ဆက်ဆံကြသည်ဖြစ်၍၊ ငါသည် အကျဉ်းခံရ
သော်၎င်၊ ဧဝံဂေလိတရားဘက်၌ သက်သေခံ၍
ထိုတရားကိုတည်စေသော်၎င် သင်တို့ကိုအောင်း
၈ မေ့၏။- ငါသည်သင်တို့အပေါင်းကို ယေရှုခရစ်
၏မေတ္တာကရုဏာနှင့်အဘယ်မျှလောက်လွမ်း
သည်ဟု၊ ဘုရားသခင်သည်သက်သေဖြစ်တော်
၉ မူ၏။-ငါသည်အဘယ်သို့ဆုတောင်းသနည်းဟူ
မူကား၊ သင်တို့သည်ခြားနားသောအရာတို့ကို
ပိုင်းခြား စေခြင်းငှါ ညာဏ်ပညာ အမျိုးမျိုး ရှိ
၁၀ လျက်၊- မေတ္တာ ပါရမီ တိုးပွား၍ ပြည့်စုံမည်
၁၁ အကြောင်းကို၎င်၊ ယေရှုခရစ် အားဖြင့် ဘုရား
သခင်၏ဘုန်းအသရေတော်ကိုထင်ရှားစေတတ်
သော ဖြောင့်မတ်ခြင်း အကျင့်နှင့် သင်တို့သည်
ပြည့်စုံ၍၊ ခရစ်တော်၏နေ့ရက်တိုင်အောင်စိတ်
ကြည်ဖြူလျက်၊ တိမ်းလဲခြင်းအမှုနှင့်ကင်းလွတ်
လျက်ရှိမည်အကြောင်းကို၎င် ငါဆုတောင်းပဌ
နာပြု၏။
၁၂ ညီအစ်ကိုတို့၊ ငါ၌ရောက်သော အမှုအရာတို့
သည် ဧဝံဂေလိတရားကို မခြစ်တားသည်သာမ
က၊ ပြုစုရာဖြစ်သည်ဟု သင်တို့သိစေခြင်းငှါ ငါ
၁၃ အလိုရှိ၏။- ထိုသို့ သော အားဖြင့် ခရစ်တော်
ကြောင့် ငါခံရသော ချည်နှောင်ခြင်း အမှုအရာ
သည်၊ နန်းတော်၌ အနှံ့အပြား ထင်ရှားသည်
သာမက၊ ခပ်သိမ်းသော အရပ်၌ ထင်ရှား၏။-
၁၄ သခင်ဘုရား၌ ညီအစ်ကို အများတို့သည် ငါခံရ
သောချည်နှောင်ခြင်းကြောင့် ယုံမှားသော စိတ်
နှင့် ကင်းလွတ်၍ ကြောက်ရွံ့ခြင်း မရှိဘဲ၊ နှုတ်
ကပတ်တရားတော်ကို သာ၍ ဟောပြောဝံ့ကြ
၁၅ ၏။- လူအချို့တို့သည် ငြူစူရန်တွေ့ချင်သော သ
ဘောနှင့် ခရစ်တော်၏ တရားကို ဟောပြောကြ
၏၊ အချို့တို့သည်စေတနာစိတ်နှင့်ဟောပြောကြ
၁၆ ၏။- ငါသည်ဧဝံဂေလိတရားကိုထောက်မခြင်းငှါ
ခန့်ထားသောသူဖြစ်ကြောင်းကို၊ ထိုသူတို့သည်

ထိ၍ ခရစ်တော်၏တရားကို မေတ္တာစိတ်နှင့်
၁၇ ဟောပြောကြ၏။- ထိုသူတို့သည် ကြည်ဖြူသော
စိတ်မရှိ၊ ချည်နှောင်ခြင်းကိုငါခံရသည်တွင်သာ
၍ဆင်းရဲစေမည်ဟုအကြံရှိ၍၊ ရန်တွေ့ချင်သော
စိတ်နှင့်ဟောပြောကြ၏။
၁၈ သို့ဖြစ်၍ အဘယ်သို့နည်း။ လျို့ဝှက်၍ ဟော
ပြောသည်ဖြစ်စေ၊ သစ္စာရှိ၍ ဟောပြောသည်
ဖြစ်စေ၊ အဘယ်သို့သော အားဖြင့် ဟောပြော
သည်ဖြစ်စေ၊ ခရစ်တော်၏တရားကို ဟောပြော
ခြင်းရှိ၏။ ထိုအကြောင်းကြောင့် ငါသည် ယခု
ဝမ်းမြောက်၏။နောင်၌လည်းဝမ်းမြောက်လိမ့်
၁၉ မည်။- အဘယ်သို့နည်းဟူမူကား၊ငါသည်အ
၂၀ လျှင်းရှက်ကြောက်ခြင်းမရှိ။ရဲရင့်ခြင်းနှင့်ပြည့်
စုံ၍၊ အသက်ရှင်သည်ဖြစ်စေ၊သေသည်ဖြစ်စေ၊
ငါကိုယ်ခန္ဓာ၌ ခရစ်တော်သည် အစဉ်မပြတ်
ဂုဏ်အသရေထင်ရှားတော်မူသကဲ့သို့၊ ယခုပင်
ထင်ရှားတော်မူမည်ဟု၊ ငါမျှော်လင့် အားကြီး
၍တောင့်တသည်နှင့်အညီ၊ သင်တို့ဆုတောင်း
သဖြင့်၎င်း၊ ယေရှုခရစ်၏ဝိညာဉ်တော်မစသဖြင့်
၎င်း၊ ဤအကြောင်းအရာသည် ငါ့ကိုကယ်တင်
၂၁ သောအကြောင်းအရာဖြစ်မည်ဟု ငါသိ၏။- ငါ
အသက်ရှင်သည်အရာမှာ၊ ခရစ်တော်ဖြစ်၏။
၂၂ သေလျှင်မူကား၊ သာ၍အကျိုးရှိ၏။- ဤကိုယ်
ခန္ဓာ၌ငါသည်အသက်ရှင်လျှင်၊ငါပြုသောအမှု
၏ အကျိုးကား၊ ထိုသို့သော အကျိုးဖြစ်၏။ သို့
သော်လည်း၊ အဘယ်အကျိုးကို ရွေးယူရမည်
၂၃ ဟုငါမသိ။- ထိုအကျိုးနှစ်ပါး၏အကြား၌ ငါ
သည်ယခုကျဉ်းမြောင်းစွာနေရ၏။စုတေ့၍ခရစ်
တော်နှင့်အတူနေခြင်းငှါ၊ တောင့်တလိုချင်သော
စိတ်ရှိ၏။ သာ၍ အလွန်ထူးမြတ်သော အကျိုး
၂၄ ဖြစ်၏။- သို့သော်လည်း၊ကိုယ်ခန္ဓာ၌နေရလျှင်၊
၂၅ သင်တို့၌သာ၍အကျိုးရှိလိမ့်မည်။-ထိုသို့ရှိလိမ့်
၂၆ မည်ဟု ယုံမှားခြင်းနှင့်ကင်းလွတ်သည်ဖြစ်၍၊
သင်တို့ရှိရာသို့ ငါတဖန်ရောက်လာသော အား
ဖြင့်၊ သင်တို့သည် ယေရှုခရစ်ကို အမှီပြု၍ ငါ့အ
တွက်ကြောင့် သာ၍ ဝါကြွားဝမ်းမြောက်ခြင်း
ရှိစေခြင်းငှါ၊ သင်တို့သည် ယုံကြည်ခြင်း၌ တိုး
ပွားဝမ်းမြောက်မည်အကြောင်း၊ငါသည်ကိုယ်
ခန္ဓာ၌ နေ၍ သင်တို့ရှိသမျှနှင့် ပေါင်းသော်ရမည်
ဟုငါသိ၏။
၂၇ သင်တို့သည် ရန်သူများကြောင့် အလျှင်းမ
ကြောက်ရွံ့မတုန်လှုပ်ဘဲ၊ တပါးတည်းသော
စိတ်ဝိညာဉ်၌တည်၍၊ ဧဝံဂေလိတရားနှင့်ဆိုင်
သောယုံကြည်ခြင်းအဖို့အလို့ငှါ တညီတညွတ်
တည်း ကြိုးစား အားထုတ်ကြသည် အကြောင်း
အရာကို၊ ငါရောက်လျှင်သင်တို့နှင့် မျက်မှောက်
တွေ့သည်ဖြစ်စေ၊ ကွာလျက်နေသည် ဖြစ်စေ၊ ငါ
ကြားသိရပါမည်အကြောင်း၊ ခရစ်တော်၏ ဧဝံ
ဂေလိတရားနှင့်အထိုက်အလျောက်၊ ဝတ်ကြီး
၂၈ ဝတ်ငယ်များကို ပြု၍သာနေကြလော့။- ထိုသို့
ရန်သူများကြောင့် အလျှင်းမကြောက်ရွံ့မတုန်
လှုပ်သော အကြောင်းအရာသည်၊ သူတို့၌ ပျက်
စီးခြင်း၏ နိမိတ်လက္ခဏာဖြစ်၏၊ ဘုရားသခင်မှ
ရင်တော်မူသောအားဖြင့် သင်တို့၌ကား၊ ကယ်
၂၉ တင်ခြင်း၏နိမိတ်လက္ခဏာဖြစ်၏။- အကြောင်း
၃၀ မူကား၊ သင်တို့သည် အထက်က မြင်သည် အ
တိုင်း၊ ယခုလည်းကြားသည်အတိုင်း ငါခံရသော
တိုက်လှန်ခြင်းကိုခံရသည်နည်းတူ၊ သင်တို့သည်
ခံရကြသည်ဖြစ်၍၊ ခရစ်တော်ကို ယုံကြည်ခြင်း
အခွင့်မှတပါး၊ ခရစ်တော်အတွက်ကြောင့်ဆင်း
ရဲခံရခြင်းအခွင့်ကို ကျေးဇူးတော်အားဖြင့် ရ
ကြ၏။

၂

၁ ထိုကြောင့်၊ ခရစ်တော်၌ သက်သာခြင်း၊
မေတ္တာနှင့် စပ်ဆိုင်သောချမ်းသာခြင်း၊ ဝိညာဉ်
တော်နှင့်မိဿဟာယဖွဲ့ခြင်း၊ သနားစုံမက်ခြင်း
၂ တည်းဟူသောအရာတစုံတခုရှိလျှင်၊- သင်တို့
သည် အချင်းချင်း ချစ်ကြ၍၊ စိတ်မကွဲပြားဘဲ ထ
လုံးတဝတည်းကြံစည်ခြင်းနှင့်တကွ၊ သဘော
တညီတညွတ်တည်းရှိသောအားဖြင့်၊ ငါ ဝမ်း
မြောက်ရေးအကြောင်းကို စုံလင်စေကြလော့။-
၃ ရန်တွေ့လိုသောစိတ်၊အချည်းနှီးကျော်စောထိခြင်း
ကိုတပ်မက်သော စိတ်ရှိ၍၊ အဘယ်အမှုကိုမျှမ
ပြုကြနှင့်။ သူတပါးသည် ကိုယ်ထက်သာ၍
ကောင်းမြတ်သည်ဟု နှိမ့်ချသော စိတ်ရှိ၍ ထ
သောက်ကိုတယောက် ထင်မှတ်ကြလော့။-
၄ ကိုယ်အမှုအရာကိုသာ မရှုမမှတ်ဘဲ၊ သူ့အမှုအ
၅ ရာကိုအချင်းချင်းရှုမှတ်ကြလော့။-ယေရှုခရစ်၌
ရှိသော ထိုစိတ်သဘောကိုသင်တို့၌လည်း ရှိစေ
၆ ကြလော့။ ထိုသခင်သည်ဘုရားသခင်၏သဏ္ဌာန်
တော်နှင့်ပြည့်စုံတော်မူသည်ဖြစ်၍၊ဘုရားသခင်
နှင့်ပြိုင်သောအမှုကိုလုယူခြင်းအမှုဟူ၍မထင်
၇ မမှတ်လျက်ပင်၊- မိမိအသရေကိုစွန့်၍ အစေခံ
ကျွန်၏သဏ္ဌာန်ကို ယူဆောင်လျက်၊ လူ့ကဲ့သို့

၈ သောအဖြစ်၌ပွား၍မြင်ခြင်းကိုခံတော်မူ၏။ ထိုသို့
လူ၏ဂုဏ်အင်္ဂါလက္ခဏာနှင့်ပြည့်စုံလျက်၊ အ
သေခံခြင်း၊ သာမယုတ်၊ ထက်ဝါးကပ်တိုင်မှာ
အသေခံခြင်းတိုင်အောင်အစေကျွန်ခံ၍ ကိုယ်
၉ ကိုကိုယ်နှိမ့်ချတော်မူ၏။- ထိုကြောင့်၊ ဘုရား
သခင်သည် ကိုယ်တော်ကို အလွန်ချီးမြှောက်၍
ဘွဲ့နာမတကာတို့ထက် ကြီးမြတ်သော ဘွဲ့နာမ
၁၀ ကို ပေးသနားတော်မူ၏။- အကြောင်းမူကား၊
ကောင်းကင်သတ္တဝါ၊ မြေကြီးသတ္တဝါ၊ မြေကြီး
အောက်၌ရှိသော သတ္တဝါတည်းဟူသော ခပ်
သိမ်းသော သတ္တဝါတို့သည် ယေရှု၏ ဘွဲ့နာမ
၁၁ တော်ကိုရှိ၍ထောက်၍၊-ယေရှုခရစ်သည်သခင်
ဖြစ်တော်မူ၏ဟု နှုတ်နှင့် ဝန်ခံသဖြင့်၊ ခမည်း
တော်ဘုရား၏ ဘုန်းအသရေတော်ကို ထင်ရှား
စေကြမည်အကြောင်းတည်း။
၁၂ သို့ဖြစ်၍၊ ငါချစ်သူတို့၊ သင်တို့သည် ငါမျက်
မှောက်၌ နားထောင်သည်သာမက၊ မျက်ကွယ်
၌ထည်း အစည်နားထောင်ကြသည်နှင့်အညီ၊
ကြောက်ရွံ့တုန်လှုပ်သော စိတ်နှင့်၊ ကိုယ်ကို
ကယ်တင်ခြင်း၌ ကိုယ်တိုင်ကြိုးစား အားထုတ်
၁၃ ကြလော့။- အကြောင်းမူကား၊ သင်တို့သည်အ
လိုရှိစေခြင်း၌၎င်း၊ အကျင့်ကျင့်စေခြင်း၌၎င်း၊
သင်တို့အထဲ၌ စေတနာတော်အား ဖြင့် ပြုပြင်
တော်မူသော သူကား၊ ဘုရားသခင်ပေတည်း။-
၁၄ သင်တို့သည် ပြုလေသမျှတို့၌ မြည်တမ်းခြင်း၊
၁၅ ငြင်းခုံခြင်းမရှိဘဲ ပြုကြလော့။- သို့ပြုလျှင်၊ အ
၁၆ ပြစ်တင်ခွင့်မရှိ၊အဘယ်သူကိုမျှမပြစ်မှားဘဲနေ
၍၊ မဖြောင့်မမှန်ဖောက်ပြန်သော လူမျိုးအထဲ၌
အဘယ်အပြစ်မျှ မပါသောဘုရားသခင်၏သား
ဖြစ်ကြလိမ့်မည်။ အသက်ရှင်ခြင်းနှင့်ဆိုင်သော
နှုတ်ကပတ်တရားတော်ကိုပြသ၍၊ စကြဝဠာ၌
နေ၊ လ၊ ကြယ် နက္ခတ်ကဲ့သို့၊ ထိုလူမျိုး အထဲ၌
ထွန်းထင်းကြ၏။ သို့ပြုလျှင်၊ ငါသည်အကျိုးမရှိ
ဘဲလျှောက်ပြေးသည်မဟုတ်၊ အကျိုးမရှိဘဲလျှက်
ကြိုးစားအားထုတ်သည်မဟုတ်ကြောင်းကို ငါ
ထောက်၍၊ ခရစ်တော်၏နေ့ရက်၌ ဝါကြွားဝမ်း
မြောက်ခြင်းရှိလိမ့်မည်။
၁၇ ထိုမျှမက၊ သင်တို့၏ယုံကြည်ခြင်းကိုတင်လှူပူ
ဇော်သော ယဇ်အပေါ်မှာ ငါကို လောင်းသော်
ထည်း၊ ဝမ်းမြောက်ခြင်းရှိ၏။ သင်တို့ရှိသမျှနှင့်
၁၈ အတူ ငါဝမ်းမြောက်ခြင်းရှိ၏။- ထိုနည်းတူ၊
သင်တို့သည်ထည်း ဝမ်းမြောက်ကြလော့။ ငါ

၁၉ နှင့်အတူဝမ်းမြောက်ခြင်းရှိကြလော့။- သင်တို့
အကြောင်းအရာများကို ငါသိ၍ စိတ်သက်သာ
ခြင်း၌ငါ၊တိမောသေကိုသင်တို့ရှိရာသို့မကြာမြ
စေလွှတ်မည်အကြောင်း၊ သခင်ယေရှုခရစ်၌ငါ
၂၀ မြော်လင့်ခြင်းရှိ၏။-အကြောင်းမူကား၊ထိုသူသည်သင်
တို့အကျိုးကို ကြည့်ရှုချင်သောစေတနာစိတ်ရှိ
သကဲ့သို့ စိတ်သဘောတူသော သူတယောက်မျှ
၂၁ ငါ့တွင်မရှိ။- လူခပ်သိမ်းတို့သည်ယေရှုခရစ်၏
အကျိုးကိုမရှာ၊ကိုယ်အကျိုးကိုသာရှာကြ၏။-
၂၂ သို့သော်လည်း၊သားသည်အဖနှင့်အတူဆောင်
ရွက်သကဲ့သို့၊ သူသည် ငါနှင့် အတူ ဧဝံဂေလိ
တရားအမှုကို အမှန်ဆောင်ရွက်သည်ဟု၊ သူ့ဖြ
၂၃ သောသက်သေကိုသင်တို့သိကြ၏။- ထိုကြောင့်၊
ငါ၌အဘယ်သို့ဖြစ်မည်ဟုငါသိသောအခါ၊ သူ
ကိုသင်တို့ရှိရာသို့ချက်ချင်းစေလွှတ်မည်ဟုကြံစည်
၂၄ မျှော်လင့်လျက်ငါနေ၏။-ထိုမျှမက၊ငါကိုယ်တိုင်
သင်တို့ရှိရာသို့ မကြာမီ လာမည်ဟု၊ သခင်
ဘုရားအားဖြင့် ယုံမှတ်စွဲလမ်းသောစိတ်ရှိ၏။
၂၅ သို့သော်လည်း၊ ဆောင်ရွက်ခြင်း၊ စစ်တိုက်
ခြင်းအမှု၌ငါ၏အပေါင်းအဖော်၊ ငါ့ကိုပြုစုသော
သူတည်းဟူသောသင်တို့တမန်၊ ညီ၊ ဧပဖြော
ဒိတ်ကို သင်တို့ရှိရာသို့ ယခု စေလွှတ်သင့်သည်
၂၆ ဟုငါထင်မှတ်၏။- အကြောင်းမူကား၊သူသည်
နာကြောင်းကိုသင်တို့ကြားသိသောကြောင့်၊သူ
သည် သင်တို့အပေါင်းကို လွမ်းဆွတ်၍ စိတ်မ
၂၇ သာလျက်နေ၏။-သူသည်သေလုအောင်နာသည်
မှန်၏။ ထိုအခါ ဘုရားသခင်သည် သူကိုသနား
တော်မူ၏။သူကိုသာသနားတော်မူသည်မဟုတ်၊
ငါ၌ဝမ်းနည်းခြင်းအဆင့်ဆင့်အထပ်ထပ်မရှိစေ
၂၈ ခြင်းငှါ၊ငါ့ကိုလည်းသနားတော်မူ၏။-ထိုကြောင့်၊
သင်တို့သည်သူ့ကိုတဖန်တွေ့မြင်၍ဝမ်းမြောက်
စေခြင်းငှါ၎င်း၊ ငါသည်ထည်း၊သက်သာခြင်းရှိ
စေခြင်းငှါ၎င်း၊သူ့ကိုသာ၍ကြိုးစားသည်နှင့်ငါစေလွှတ်၏။-
၂၉ သို့ဖြစ်၍၊ သခင်ဘုရားကို ထောက်လျက်၊ ဝမ်း
မြောက်သောစိတ်နှင့် သူ့ကိုလက်ခံကြလော့။ ထို
သို့သော သူတို့ကို ရိုသေ လေးမြတ် ကြလော့။-
၃၀ အကြောင်းမူကား၊ သင်တို့သည် ငါ့ကိုပြုစု၍ မ
ပြည့်စုံသေးသော ဝတ်ကို သူသည် ပြည့်စုံစေ
ခြင်းငှါ၊ ကိုယ်အသက်ကို စွန့်စား၍၊ ခရစ်တော်
၏အမှုကြောင့်သေခြင်းသို့ရောက်လုနီးပြီ။

၃

၁ ကြွင်းသေးသောစကားဟူမူကား၊ညီအစ်ကို

ထို့၊ သခင်ဘုရား၌ ဝမ်းမြောက်ခြင်းရှိကြလော့။
အထပ်ထပ်ငါရေးလိုက်သော်ထဉ်း၊ ပင်ပန်းခြင်း
မရှိ။ သင်တို့မူကား လုံခြုံခြင်းရှိကြလိမ့်မည်။-
၂ ခွေး တို့ကို ရှောင်ကြလော့၊ မကောင်းသော အ
ကျင့်ကို ကျင့်သောသူတို့ကို ရှောင်ကြလော့။ အ
ရေဖျားလှီးခြင်းကို ခံရောင်ဆောင်သောသူတို့ကို
၃ ရှောင် ကြလော့။- ငါတို့သည် စိတ်ဝိညာဉ်အား
ဖြင့် ဘုရားသခင်ကို ကိုးကွယ် ၍၊ ဇာတိ၌ ကိုး
စားခြင်းမရှိဘဲ၊ ယေရှုခရစ်၌ သာဝါကြွား ဝမ်း
မြောက်သောသူဖြစ်၍၊ မှန်သော အရေဖျားလှီး
၄ ခြင်းကိုခံသောသူဖြစ်ကြ၏။-သို့သော်လည်း၊ငါ
ဖြစ်လျှင် ဇာတိ၌ ကိုးစားစရာ အကြောင်းရှိ၏။
အခြားသူမည်သည်ကား၊ ဇာတိ၌ကိုးစားစရာ
အကြောင်းရှိသည်ဟု ထင်လျှင်၊ ငါမူကားသာ
၅ ၍ရှိ၏။- ငါသည်ရှစ်ရက်မြောက်သောနေ့၌ အ
ရေဖျားလှီးခြင်း ကို ခံရ၏။ ဣသရေလ အမျိုး၊
ဗင်္ယာမိန်အနွယ်ဖြစ်၏၊ ဟေဗြဲလူမှ ဆင်းသက်
သောဟေဗြဲလူစစ်ဖြစ်၏။တရားအားဖြင့်ဖာရိရှဲ
၆ ဖြစ်၏၊- စိတ် အား ကြီး ခြင်း ကို မေးသော်၊ ငါ
သည်အသင်းတော်ကိုညှဉ်းဆဲသောသူဖြစ်၏။
ပညတ်တရားအားဖြင့် ရသော ဖြောင့်မတ်ခြင်း
ကိုမေးပြန်သော်၊ငါသည်အပြစ်တင်ခွင့်နှင့်ကင်း
၇ လွတ်သောသူဖြစ်၏။- သို့သော်လည်း၊ ငါ၏အ
ကျိုးစီးပွားကို ပြုစုသောအရာရှိသမျှတို့ကို၊ ရှုံး
စေသောအရာကဲ့သို့ ခရစ်တော်ကြောင့် ငါထင်
၈ မှတ်၏။- ထိုမှုမက၊ငါ၏သခင်ယေရှုခရစ်ကိုသိ
၉ သောပညာသည်အဘယ်မျှထောက်မြတ်သည်
၁၀ ကိုထောက်၍၊-ခပ်သိမ်းသောအရာတို့ကိုရှုံးစေ
၁၁ သော အ ရာ ကဲ့ သို့ ငါ ထင် မှတ် ၏။- ထို သခင်
ကြောင့် ခပ်သိမ်းသောအရာတို့ကို အရှုံးခံရပြီ။
သေခြင်းမှ ထမြောက်သော အခွင့်ကို ငါ ရနိုင်
ကောင်းလျှင်၊ ကိုယ်တော်သည် အသေခံတော်
မူသည်နည်းတူ၊ ငါ သည်လည်း အသေခံ၍ ထို
သခင်ကိုငှင်၊ထမြောက်တော်မူခြင်း၏တန်ခိုးကို
ငှင်၊ ဆင်းရဲခံတော်မူခြင်းကို ဆက်ဆံ၍ခံခြင်း
ကိုငှင် သိကျွမ်းခြင်းငှါ၊ ပညတ်တရားအားဖြင့်
ရသော ကိုယ် ဖြောင့်မတ် ခြင်းကို မကိုးစားဘဲ၊
ခရစ် တော် ကို ယုံ ကြည် ခြင်း အား ဖြင့် ရသော
ဖြောင့်မတ်ခြင်း တည်းဟူသော၊ ယုံကြည်ခြင်း
အတွက်ကြောင့် ဘုရားသခင် ပေး တော် မူသော
ဖြောင့်မတ်ခြင်းကိုကိုးစားသဖြင့်၊ခရစ်တော်ကို
အမြတ်ရ၍ထိုသခင်၌တည်ပါမည်အကြောင်း။

ခပ်သိမ်းသောအရာတို့ကိုမစင်ကဲ့သို့ငါထင်မှတ်
၁၂ ၏။- ထိုသို့ဆိုသော်အကျိုးကိုခံရပြီ၊စုံလင်ခြင်း
သို့ရောက်ရပြီဟု ငါမဆိုလို။ အကြင်အကျိုးကို
ပေးခြင်းငှါ ခရစ်တော်သည်ငါ့ကို ကိုင်ဖမ်းတော်
မူ၏၊ ထိုအကျိုးကိုကိုင်မိခြင်းငှါ ငါပြေး၍လိုက်
သေး၏။
၁၃ ညီအစ်ကိုတို့၊ ငါကိုင်မိပြီဟု ကိုယ်ကိုကိုယ်မ
ထင်သော်လည်း၊ငါပြုသောအမှုတခုတည်းမူကား၊
နောက်ကျသော အရာတို့ကို မ မှတ်ဘဲ၊ ရှေ့၌ရှိ
၁၄ သော အရာ တို့ကို ဟွမ်းကမ်း၍၊- ယေရှုခရစ်
အားဖြင့်ဘုရားသခင်သဉ်အထက်အရပ်မှခေါ်
တော် မူခြင်းနှင့်ဆိုင်သော ဆုကိုရခြင်းငှါ၊ ပန်း
၁၅ တုံးတိုင်သို့ ငါလိုက်ပြေး၏။- ထိုကြောင့်၊ စုံလင်
သောသူရှိသမျှတို့သည်ဤသို့သောသဘောကိုစွဲ
လမ်းရကြမဉ်း၊ သင်တို့သဉ်တစုံတခုသောအရာ
၌ သဘောခြားနားလျှင်၊ ထိုအရာကိုပင် ဘုရား
၁၆ သခင်ဖော်ပြတော်မူလိမ့်မည်။- သို့မထုတ်သော်
လည်း၊ ယခုမှီသမျှအတိုင်း တနည်းတည်းကျင့်
၁၇ ၍တသဘောတည်းရှိရကြမည်။-ညီအစ်ကိုတို့၊
ငါကျင့်သည်နည်းတူ၊သင်တို့သဉ်တညီတညွတ်
တည်း ကျင့်ကြလော့၊ ငါ တို့ ပေးသော ပုံသက်
သေနှင့်အညီ ကျင့်သော သူတို့ကိုလည်း ရှုမှတ်
၁၈ ကြလော့။ အကြောင်းမူကား၊အထက်အဖန်ဖန်
ငါပြော၍၊ ယခုပင် မျက်ရည် ကျလျက်နှင့် ပြော
သဉ်အတိုင်း၊ခရစ်တော်၏လက်ဝါးကပ်တိုင်ကို
၁၉ ရန်ဘက်ပြု၍ ကျင့်သောသူအများရှိကြ၏။- ထို
သူတို့သည် ပျက်စီးခြင်း၌ လမ်းဆုံးတတ်ကြ၏။
သူတို့၏ဘုရားမူကား၊မိမိတို့ဝမ်းပေတည်း။မိမိတို့
ရှက်ကြောက်ဖွယ်သော အကျင့်၌သာ မိမိတို့ဝါ
ကြွားကြ၏။ လောကီအရာတို့ကိုသာစိတ်စွဲလမ်း
၂၀ ခြင်းရှိကြ၏။- ငါတို့ ကျင့်သော အကျင့် မူကား၊
ကောင်းကင်ဘုံ နှင့် စပ်ဆိုင်လျက် ရှိ ၏၊ ကယ်
တင်တော်မူသော အရှင်သခင် ယေရှုခရစ်သည်
ကောင်းကင်ဘုံမှ ကြွလာတော် မူမည်ဟု၊ ငါတို့
၂၁ သည် မျှော်ထင့်လျက်နေကြ၏။- ထိုသခင်သည်
ခပ်သိမ်းသော အရာကိုပင် မိမိ အောက်၌ နှိမ်ချ
နိုင်တော်မူသော ပြုဖွင်အားထုတ်ခြင်းအားဖြင့်၊
ယုတ်ညံ့သော ငါတို့၏ ကိုယ် ခန္ဓာကို ပင်၊ ဘုန်း
အသရေနှင့်ပြည့်စုံသောကိုယ်ခန္ဓာတော်၏နည်း
တူဖြစ်စေခြင်းငှါ၊အသစ်ပြုင်ဆင်တော်မူလတံ့။

၄

၁ ထိုကြောင့်၊ငါဝမ်းမြောက်ခြင်းအကြောင်း။င

ဦးရစ်သရဖူတဆူဖြစ်သော၊ ငါချစ်၍အလွန်လွမ်း
သော ညီအစ် ကို တို့၊ ငါ ဆိုခဲ့ပြီး သည့် အတိုင်း
သခင်ဘုရား၌တည်နေကြလော့၊ ချစ်သူတို့။
၂ ဧဝေါဒိနှင့် သုန္တုခေတို့သည် သခင် ဘုရား၌
သဘောတညီ တညွတ်တည်း ဖြစ်ရကြမည် အ
၃ ကြောင်းကိုငါတောင်းပန်သွေးဆောင်ပါ၏။-အ
ချင်းလုပ်ဖော်ဆောင်ဖက်စစ်၊ သင့်ကိုလည်းငါ
တောင်းပန်၏။ ငါနှင့် ကလေမင် မှစ၍ အသက်
စာရင်း ဝင်သော၊ အခြား သော ငါ၏ လုပ်ဖော်
ဆောင် ဖက် တို့ နှင့် အ တူ၊ ဧဝံ ဂေလိ တရား ကို
ဟော ပြော သော အမှု၌ ကူညီ၍ ကြိုးစား အား
ထုတ်သောမိန်းမတို့ကိုမစထောက်ပံ့ပါလော့။
၄ သခင်ဘုရား၌အစဉ်မပြတ်ဝမ်းမြောက်ခြင်း
ရှိကြလော့။တဖန်ငါဆိုသည်ကား၊ ဝမ်းမြောက်
၅ ကြလော့။- လူအပေါင်းတို့ရှေ့၌သင်တို့၏ဖြည်း
ညှင်း ခြင်း သဘော ကို ထင် ရှား စေ ကြ လော့။
၆ သခင်ဘုရားသည်အနီးအပါး၌ရှိတော်မူ၏။-အ
ဘယ် အမှုကို မျှ မိုး ရိမ် ခြင်း မရှိဘဲ၊ အရာရာ ၌
ကျေး ဇူး တော် ကို ချီး မွမ်း ခြင်း နှင့် တ ကွ ဆု
တောင်းပဋ္ဌနာပြုသောအားဖြင့်၊သင်တို့တောင်း
ပန်လိုသော အရာများတို့ကို ဘုရားသခင် အား
၇ ကြားလျှောက်ကြလော့။-ထိုသို့ပြုလျှင်၊ အဘယ်
သူမျှကြံ၍မရနိုင်သောဘုရားသခင်၏ငြိမ်သက်
ခြင်းသည်၊ ယေရှုခရစ်အားဖြင့် သင်တို့၏ စိတ်
နှလုံးတို့ကိုစောင့်မလိမ့်မည်။
၈ ကြွင်းသေးသောစကားဟူမူကား၊ ညီအစ်ကို
တို့၊ သမ္မာတရားနှင့်ဆိုင်သောအကျင့်၊လျှောက်
ပတ်သောအကျင့်၊ ဖြောင့်မတ်သောအကျင့်၊ စင်
ကြယ် သော အ ကျင့်၊ သူ တပါး နှစ်သက် ဖွယ်
သောအကျင့်၊ ချီးမွမ်းဖွယ်သောအကျင့်ရှိသမျှ
တို့ကိုငှင်၊ပါရမီတပါးပါးကောင်းသောသိတင်း
တပါးပါးနှင့်ဆိုင်သောအကျင့်တို့ကိုငှင် နှစ်လုံး
၉ သွင်းကြလော့။-သင်တို့သည်အထက်ကသင်ယူ
၍ ငါ့၌ ကြား၊မြင်ခဲ့ပြီးသမျှတို့ကို ကျင့်ကြလော့။
ထိုသို့ ကျင့်လျှင်၊ ငြိမ်သက်ခြင်း၏ အရှင် ဘုရား
သခင်သည်သင်တို့နှင့်အတူရှိတော်မူလိမ့်မည်။
၁၀ ထိုမှတပါး၊ သင်တို့သည် ငါ့ကို ကြည့်ရှုပြုစု
ချင်သော စေတနာစိတ်နှင့် ပြည့်စုံပြန်သည် ဖြစ်
၍၊ ငါသည် သခင်ဘုရား၌ အလွန်ဝမ်းမြောက်
ခြင်းရှိ၏။ ထိုစေတနာ စိတ်သည် အထက်က ရှိ
၁၁ သော်လည်း၊ ပြုစုရသောအခွင့်မရှိပြီ။- ထိုသို့ငါ
ဆိုသော်၊ ကိုယ်တိုင်ဆင်းရဲခြင်းကို ရည်မှတ်၍
ဆိုသည်မဟုတ်။အကြောင်းမူကား၊ငါသည်တွေ့
ကြုံသမျှ သော အခြင်း အရာတို့၌ ရောင့်ရဲသော
၁၂ စိတ်ရှိအံ့သောငှါ သင်မိပြီ။- ရှုတ်ချခြင်းကိုငှင်၊
ကြွယ်ဝ ခြင်းကို ငှင် ခံတတ်၏။ ဝစွာ စား ခြင်း၊
ငွတ်သိပ်ခြင်း၊ စည်းစိမ်ရှိခြင်း၊ ဆင်းရဲခြင်းတို့ကို
ခံရအံ့သောငှါ၊အရပ်ရပ်တို့တွင်အရာရာ၌သင်မိ
၁၃ ပြီ။- ငါ့ကို ခွန်အားနှင့် ပြည့်စုံစေ တော် မူ သော
ခရစ်တော်အားဖြင့်၊ ခပ်သိမ်းသော အမှုတို့ကို
၁၄ ငါတတ်စွမ်းနိုင်၏။-သို့သော်လည်း၊ဆင်းရဲဒုက္ခ
ကိုငါခံရစဉ်အခါ၊ သင်တို့သည်ငါနှင့်ဆက်ဆံ
၁၅ သောအားဖြင့်ကောင်းမွန်စွာပြုကြပြီ။- အချင်း
ဖိလိပ္ပိမြို့သားတို့၊ ဧဝံဂေလိတရားကို ဟောစပြု
၍၊ မာကေဒေါနိပြည်မှ ငါထွက်သွားသောအခါ
အလှူလှူခြင်း၊အလှူခံခြင်းအမှု၌၊သင်တို့မှတပါး
အဘယ်အသင်းတော်မျှ ငါနှင့်မဆက်ဆံကြ။-
၁၆ အကြောင်းမူကား၊ သက်သာလောနိတ်မြို့၌ငါရှိစဉ်ပင်၊ ငါလိုသော
အရာကို သင်တို့သည် နှစ်ကြိမ်တိုင်အောင် ပေး
၁၇ လိုက်ကြ၏။- ထိုသို့ငါဆိုသော်၊အလှူကိုရှာသည်
မဟုတ်။ သင်တို့၌ ကြွယ်ဝသော အကျိုးကို ရှာ
၁၈ ၏။-ယခုအခါအရာရာ၌ငါရတတ်၏။ဥစ္စာကြွယ်
ဝ၏။ မွှေးကြိုင်သော အနံ့နှင့် ပြည့်စုံ၍၊ ဘုရား
သခင် နှစ်သက်အားရတော်မူသော ယဇ်တည်း
ဟူသော၊ သင်တို့ပေးလိုက်သောအရာတို့ကိုဧပ
ဖြောဒိတ်ထက်မှငါခံရသည်ဖြစ်၍ကြွယ်ဝလျက်
၁၉ ရှိ၏။- ငါ၏ဘုရားသခင်သည်ဘုန်းအာနုဘော်၌
စံပယ်တော်မူသောစည်းစိမ်ရှိသည်အတိုင်း၊သင်
တို့ အလိုရှိသမျှတို့ကို ယေရှုခရစ်အားဖြင့် ပြည့်
၂၀ စုံစေတော် မူ လိမ့်မည်။- ငါတို့အဘ တည်း ဟူ
သောဘုရားသခင်သည်ကမ္ဘာအဆက်ဆက်ဘုန်း
ကြီးတော်မူစေသတည်း။ အာမင်။
၂၁ ယေရှုခရစ်၌ရှိသော သန့်ရှင်းသူအပေါင်းတို့
၂၂ ကိုနှုတ်ဆက်ကြလော့။- ငါနှင့်အတူရှိသောညီ
အစ်ကိုမှစ၍၊ သန့်ရှင်းသူအပေါင်းတို့သည်သင်
တို့ကို နှုတ်ဆက်ကြ၏။ ကဲသာဘုရင်၏နန်းတော်
၌နေသော သန့် ရှင်း သူ တို့ သည် အထူး သဖြင့်
၂၃ နှုတ် ဆက် ကြ ၏။- ငါတို့ သခင် ယေရှု ခရစ်၏
ကျေးဇူးတော်သည်သင်တို့အပေါင်း၌ ရှိစေသ
တည်း။ အာမင်။

ဖိလိပ္ပိဩဝါဒစာပြီး၏။

  

# ကောလောသဲဩဝါဒစာ။

# COLOSSIANS.

၁

၁ ဘုရားသခင်၏အလိုတော်အားဖြင့်ယေရှုခရစ်
၏တမန်တော်ဖြစ်သောငါပေါလုနှင့်ညီတိမောသေ
၂ သေသည်၊-ကောလောသဲမြို့၌နေသောသန့်ရှင်း
သူတည်းဟူသော၊ ခရစ်တော်ကိုယုံကြည်သော
ညီအစ်ကို တို့ကို ကြား၊လိုက်ပါ၏။ သခင်ယေရှု
ခရစ်နှင့် ငါတို့အဖဘုရားတည်းဟူသော ဘုရားသခင်
ထံတော်က ကျေးဇူးတော်နှင့် ငြိမ်သက်ခြင်း
သည်သင်တို့၌ရှိပါစေသော။
၃ သင်တို့သည်ယေရှုခရစ်ကိုယုံကြည်၍၊ သန့်
၄ ရှင်းသူအပေါင်းတို့ကိုချစ်ကြသည်ဟုငါတို့သည်
၅ ကြား၊သဖြင့်၎င်း၊သမ္မာတရားတည်းဟူသောဧဝံ
ဂေလိတရားကိုသင်တို့သည်အထက်ကကြား၍သိ
ကြသည်အတိုင်း၊သင်တို့အဖို့ကောင်းကင်ဘုံ၌
သိုထားသောမျှော်လင့်ရာကိုထောက်သဖြင့်၎င်း၊
သင်တို့အဖို့ အစဉ် မပြတ် ဆုတောင်း၍၊ ငါတို့
သခင်ယေရှုခရစ်၏ခမည်းတော်တည်းဟူသော
ဘုရားသခင်၏ ကျေးဇူးတော်ကို ချီးမွမ်းကြ၏။-
၆ ထိုတရားသည်လောကီနိုင်ငံတရှောက်လုံးကို နှံ့
ပြား၊သည်နှင့်အညီ၊ သင်တို့ရှိရာသို့ရောက်ခဲ့ပြီး၊
သင်တို့၌ အသီးသီး၊ခြင်း၊ တိုးပွားခြင်းကို ပြု
၇ သည်နည်းတူ၊အရပ်ရပ်၌ပင်ပြုတတ်၏။- သင်
တို့အမှုကိုစောင့်၍၊ခရစ်တော်ထံ၌သစ္စာရှိသော
ဆရာတည်းဟူသော၊ ငါတို့ချစ်သော ကျွန်ချင်း
ဧပဖြသည် သင်တို့ကို သွန်သင်သည်အတိုင်း
သင်တို့သည်ကြား၍၊ ဘုရားသခင်၏ ကျေးဇူး
တော်ကို မှန်ကန်စွာ ဝန်ခံသော နေ့မှစ၍ ထိုသို့
၈ သောအကျိုးရှိ၏။-သင်တို့၌ရှိသောဝိညာဉ်ပက
တိမေတ္တာကိုဧပဖြသည်ငါတို့အားပြခဲ့ပြီ။
၉ ထိုကြောင့်၊ငါတို့သည်ကြားရသည်နေ့မှစ၍၊
၁၀ သင်တို့အဖို့ ထလို့ငှါ အစဉ် မပြတ် ဆုတောင်း
၁၁ ပဌနာပြုလျက်နေကြ၏။ဆုတောင်းသောအချက်
တူမူကား၊ သင်တို့သည် ကောင်းသော အကျင့်
အမျိုးမျိုးတည်းဟူသော အသီးကို သီးခြင်း၊
ဘုရားသခင်ကို သိသောဉာဏ်တိုးပွားခြင်း ရှိ
သဖြင့်၎င်း၊ ဝမ်းမြောက်သောစိတ်နှင့်အရာရာ၌
သည်းခံခြင်း၊ စိတ်ရှည်ခြင်းထလို့ငှါ၊ ဘုန်းကြီး
သော တန်ခိုးတော်အတိုင်း ခွန်အားနှင့် ပြည့်စုံ
သဖြင့်၎င်း၊ ခမည်းတော်ဘုရား၏ ကျေးဇူးတော်
ကိုချီးမွမ်းလျက်၊သခင်ဘုရားနှင့်ထိုက်လျောက်
စွာကျင့်၍ အရာရာ၌ နှစ်သက်တော် မူစေခြင်း
ငှါ၊ ပညာအမျိုးမျိုး၊ ဝိညာဉ်ဉာဏ်အမျိုးမျိုးအား
ဖြင့်၊ အလိုတော်ကို အကုန်အစင် နား၊လည် ပါ
၁၂ မည်အကြောင်းဆုတောင်းပဌနာပြု၏။-အလင်း
၌နေသော သန့်ရှင်းသူတို့၏အမွေကို ငါတို့သည်
ဆက်ဆံဝင်စား၊ထိုက်မည်အကြောင်း၊ ကျေးဇူး
၁၃ ပြုတော်မူ၏။- မှောင်မိုက်တန်ခိုးမှလည်းငါတို့
ကိုနှုတ်၍၊ ချစ်တော်မူသောသားတော်၏နိုင်ငံထဲ
၁၄ သို့ သွင်းတော်မူ၏။- ထိုသားတော်၏ အသွေး
အားဖြင့် အပြစ် လွှတ်တော် မူခြင်းတည်း၊ ဟူ
သော၊ ရွေး နှုတ်တော်မူခြင်း ကျေးဇူးကို ငါတို့
သည်ခံရကြ၏။
၁၅ ထိုသားတော်သည် မျက်မြင်မရသော ဘုရား
သခင်၏ပုံသဏ္ဌာန်တော်ဖြစ်၏။ ဝေနေယျသတ္တ
ဝါအပေါင်းတို့တွင်လည်း သားဦး ဖြစ်တော်မူ
၁၆ ၏။- အကြောင်းမူကား၊ ထို သားတော် သည်
ကောင်းကင်ပေါ်၊မြေကြီးပေါ်မှာရှိသမျှသောရူပ
အရာ၊အရူပအရာ၊ ရာဇပလ္လင်ဖြစ်စေ၊ အစိုးရ
ခြင်းတန်ခိုးဖြစ်စေ၊ အထွဋ်အမြတ်ဖြစ်စေ၊ အာ
ဏာစက်ဖြစ်စေ၊ ခပ်သိမ်းသောအရာတို့ကိုဖန်
ဆင်းတော်မူ၏။ ထိုသခင်အားဖြင့်၎င်း၊ထိုသခင်
အဖို့အလို့ငှါ၎င်း၊ ခပ်သိမ်းသော အရာတို့သည်
၁၇ ဖန်ဆင်းလျက် ဖြစ်ကြ၏။- သားတော်သည်
လည်း ခပ်သိမ်းသော အရာမဖြစ်မှီ ဖြစ်တော်မူ
၍၊ ခပ်သိမ်းသော အရာတို့သည် တန်ခိုးတော်
၁၈ အားဖြင့်သာတည်ကြ၏။-အသင်းတော်တည်းဟူ
သောကိုယ်၏ဦးခေါင်းဖြစ်တော်မူ၏။ အရာရာ၌
ထူးမြတ်ခြင်းငှါမူလအရင်းဖြစ်၍၊ သေသောသူ
၁၉ တို့တွင် သားဦး ဖြစ်တော် မူ၏။- အကြောင်းမူ
ကား၊ ခပ်သိမ်းသောပြည့်စုံခြင်းကိုသားတော်၌
၂၀ ကိန်းဝပ်စေခြင်းငှါ၎င်း၊-လက်ဝါးကပ်တိုင်မှာ
သွန်းသောအသွေးတော်အားဖြင့်ရန်ကိုငြိမ်းစေ
၍၊ ကောင်းကင်အရာဖြစ်စေ၊ မြေကြီးအရာဖြစ်
စေ၊ ခပ်သိမ်းသောအရာတို့ကို သားတော်အား

ဖြင့် ဘုရားသခင် နှင့် မိဿဟာယ ဖွဲ့စေခြင်းငှါ
ငှင်အလိုရှိတော်မူ၏။
၂၀ အထက်က ဘုရားသခင် နှင့် ကွာရှင်း၍၊ ဆိုး
ညစ်သော အကျင့်ကို ကျင့်သဖြင့် စိတ်နှစ်လုံး၌
ရန်သူဖြစ်သောသင်တို့ကို၊ ကိုယ်ခန္ဓာတော်၌အ
သေခံ တော်မူသောအားဖြင့်၊ ယခုမိဿဟာယ
၂၂ ဖွဲ့စေတော်မူ၏။- အကြောင်းမူကား၊ ကောင်း
၂၃ ကင်းဆောက်၌ရှိသမျှသောဝေနေယျသတ္တဝါတို့
အားဟောပြောသဖြင့်၊ သင်တို့သည်ကိုယ်တိုင်
ကြားရပြီးသောဧဝံဂေလိတရား၏မျှော်လင့်ခြင်း
မှမရွေ့လျော့ဘဲ၊ တိုက်မြစ်ကျခြင်း၊ တည်ကြည်
ခြင်းနှင့်တကွ ဖြိမြဲစွာယုံကြည်ကြလျှင်၊ သန့်ရှင်း
စင်ကြယ်လျက်၊ အပြစ် တင်ခွင့်နှင့် ကင်းလွတ်
လျက်ရှိသောသင်တို့ကိုရှေ့တော်၌ ဆက်သမည်
အကြောင်းတည်း။
၂၄ ငါပေါလုသည်ထိုတရားကို ဟောသောဆရာ
ဖြစ်သည်နှင့် သင်တို့အဖို့အလိုငှါ ဆင်းရဲခံခြင်း
၌ယခုဝမ်းမြောက်၍၊ ခရစ်တော်၏ဆင်းရဲဒုက္ခ
အကြွင်းအကျန်ကိုအသင်းတော်တည်းဟူသော
ကိုယ်တော်အဖို့အလိုငှါ ငါကိုယ်ခန္ဓာ၌ ပြည့်စုံ
၂၅ စေ၏။- ရှေးကပ်ကာလပတ်လုံးဝှက်ထားလျက်
၂၆ ရှိသော်လည်း၊ ယခု တွင် သန့် ရှင်း သူ တို့ အား
ဖော်ပြ သော နက် နဲ ရာ တည်း ဟူ သော ဘုရား
သခင်၏နှုတ်ကပတ်တရားတော်ကိုအကုန်အစင်
ဟောပြောစေခြင်းငှါ၊သင်တို့အကျိုးကိုထောက်
၍၊ ငါ့အားအပ်ပေးတော်မူသော ဘုရားသခင်၏
အာဏာတော်နှင့်အညီ၊ငါသည်အသင်းတော်၌
၂၇ စေ့ဆရာ၏အဖြစ်သို့ရောက်ရပြီ။- တပါးအမျိုး
သားတို့တွင် ဤနက်နဲသောအရာနှင့်ဆိုင်သော
မဟာ စည်းစိမ် ကား၊ အဘယ် မျှလောက် ကြီး
သည်ကိုသန့်ရှင်းသူတို့သည်သိစေခြင်းငှါ၊ဘုရား
သခင်အလိုရှိတော်မူ၏။ ထိုစည်းစိမ်ကား၊ဘုန်း
အသရေကိုမျှော်လင့်ခြင်း၏အကြောင်းတည်းဟူ
သော၊ သင်တို့အထဲ၌ တည် တော်မူသော ခရစ်
၂၈ တော်ပေတည်း။- ခရစ်တော်အားဖြင့် လူ တိုင်း
စုံလင်ခြင်းသို့ရောက်၍ လူခပ်သိမ်းတို့ကို ဆက်
သအံ့သောငှါ၊ ငါတို့သည် လူခပ်သိမ်းတို့ကို သ
တိပေး၍ပညာအမျိုးမျိုးနှင့် ဆုံးမသွန်သင်လျက်
၂၉ ခရစ်တော်၏တရားကိုဟောပြောကြ၏။- ထိုသို့
အလိုငှါငါသည်အမှုဆောင်ရွက်၍၊ငါ၌တန်ခိုး
တော်ပြုပြင်အားထုတ်တော်မူသည်အတိုင်းကြိုး
စားအားထုတ်လျှက်ရှိ၏။

၂

၁ သင်တို့နှင့်လောဒိကိမြို့သူ မြို့သားတို့မှစ၍၊ ငါ
၂ မျက်နှာကို မမြင်ဘူးသော သူရှိသမျှ တို့သည်၊
မေတ္တာချင်း ထုံးဖွဲ့၍၊ ခမည်းတော် ဘုရား နှင့်
ခရစ်တော်၏ နက်နဲသော အရာကို နားလည်နိုင်
သော၊ ဝိနိစ္ဆယပညာနှင့်ကင်း၊ စင်သောညဏ်၏စည်း
စိမ် အပေါင်းနှင့် ပြည့်စုံ၍၊ စိတ် နှစ်လုံး သက်
သာစေမည်အကြောင်း၊ အဘယ်မျှလောက်ကြီး
သောတိုက်လှန်ခြင်းကို ငါခံရသည်ဟု၊ သင်တို့
၃ သိစေခြင်းငှါ ငါအလိုရှိ၏။- ထိုနက်နဲသောအ
ရာ၌ ပညာ ဘဏ္ဍာ၊ ညဏ် ဘဏ္ဍာ ရှိသမျှ တို့
၄ သည် ဝှက်ထားလျက် ရှိကြ၏။- အ ထယ် မည်
သောသူမျှ ဖြားယောင်း သော စကား အားဖြင့်
သင်တို့ကိုမလှည့်ဖြားစေခြင်းငှါ၊ ဤစကားကိုငါ
၅ ပြောဆို၏။-ငါသည်ကိုယ်ခန္ဓာအားဖြင့်သင်တို့
နှင့်ကွာ၍နေသော်လည်း၊ စိတ်ဝိညာဉ်အားဖြင့်
သင်တို့ နှင့် အတူ ရှိသည် ဖြစ်၍၊ သင်တို့ သည်
လျောက်ပတ် စွာစီရင်ပြုပြင်တတ်သည် ကိုငှင်၊
ခရစ်တော်၌ခိုင်ခံ့ စွာ ယုံကြည်သည်ကိုငှင် မြင်
၆ လျှင် ဝမ်းမြောက် ခြင်း ရှိ၏။- ထိုကြောင့်၊ သင်
၇ တို့သည်သခင် ယေရှုခရစ်ကို ခံယူ ပြီးသည်ဖြစ်
၍၊ ထိုသခင်၌စိုက်ပျိုးခြင်း၊တည်ဆောက်ခြင်း
ရှိလျက်၊ နည်းဥပဒေသကို ခံပြီးသည် အတိုင်း
ယုံကြည်ခြင်း၌ မြဲမြံစွာ စွဲလမ်းလျက်၊ ကျေးဇူး
တော်ကို ချီးမွမ်းခြင်းနှင့် တကွ၊ ယုံကြည်ခြင်း
တို့ပွားပြည့်စုံလျက်၊ ထိုသခင်၌ကျင်လည်ကြ
ထေ့။
၈ ခရစ် တော်၏ တရားကို မလိုက်၊ လူ အ ဆက်
ဆက်ခံသောနည်းဥပဒေသနှင့်လောကီတရားနု
ကိုလိုက်၍၊ လောကီပညာနှင့် အချည်းနှီးသော
ပရိယာယ်အားဖြင့်၊ သင်တို့ကို အဘယ်သူမျှ မ
လုယူ မဖျက်ဆီး စေခြင်းငှါ သတိပြုကြထေ့။-
၉ အကြောင်းမူကား၊ ဘုရားသခင်၏ ဓာတ်အဖြစ်
တော်၏ပြည့်စုံခြင်းအပေါင်းသည် ခရစ်တော်၌
၁၀ ကိုယ်ထင်ရှား၍ ကျိန်းဝပ်တော်မူ၏။- အထွဋ်
အမြတ်၊ အာဏာစက်ရှိသမျှကိုအုပ်စိုးတော်မူ
သော၊ထိုသခင်၌ သင်တို့သည် စုံလင်ခြင်းရှိကြ
၁၁ ၏။- ခရစ်တော်၏ အရေဖျားလှီးခြင်း အားဖြင့်၊
ဓာတ်ပကတိ အပြစ်၏ ကိုယ် ကို ပယ် ရှင်း၍၊
လက်ဖြင့်မလုပ်သော အရေဖျားလှီးခြင်းကို ထို
၁၂ သခင်၌သင်တို့သည် ခံကြသည်ဖြစ်၍၊ နှစ်ခြင်း
အားဖြင့်ထိုသခင်နှင့်အတူသင်းဂြိုဟ်ခြင်းကိုခံ

ကြ၏။ ခရစ်တော်ကို သေခြင်းမှ ထမြောက်စေ
တော်မူသော ဘုရားသခင်၏ ပြုပြင်အားထုတ်
တော်မူခြင်းကိုယုံကြည်သောအားဖြင့်၊ နှစ်ခြင်း
ကို ခံ၍ ထိုသခင်နှင့် အတူ ထမြောက်ခြင်းသို့
၁၃ ရောက်ကြ၏။- ဒုစရိုက်အပြစ်၌၎င်း၊ ဇာတိပကတိ၏အရေဖျားလှီးခြင်းကိုမခံသောအပြစ်၌၎င်း
သေလျက်ရှိနေသောသင်တို့ကို ခရစ်တော်နှင့်အတူအသက်ရှင်စေ၍၊ သင်တို့အပြစ်ရှိသမျှတို့ကို
၁၄ လွှတ်တော်မူ၏။- ငါတို့နှင့် ဆန့်ကျင်ဘက် ဖြစ်
သောပညတ်အထုံးအဖွဲ့နှင့် စပ်ဆိုင်သောလက်
မှတ်ကို ချေ၍၊ လက်ဝါးကပ်တိုင်မှာ မှိုက်ထား
လျက်၊ ငါတို့စပ်ကြားထဲကပယ်ရှင်းတော်မူပြီး-
၁၅ အထွဋ်အမြတ်၊ အာဏာစက်များကို လုယူလျှင်၊
ထင်ရှားစွာ ထုတ်ပြ၍ လက်ဝါးကပ်တိုင် တော်
အားဖြင့်အောင်ပွဲကိုခံတော်မူပြီ။
၁၆ ထို့ကြောင့်၊ စားသောက်ခြင်းအမှု၊ ပွဲနေ့၊
လဆန်းနေ့၊ ဥပုသ်နေ့ တို့ကိုစောင့်ခြင်းအမှုတွင်
သင်တို့ကို အဘယ်သူမျှ မစစ်ကြော မစီရင် စေ
၁၇ နှင့်။- ထိုအရာတို့သည် နောက် ဖြစ်လတ္တံ့သော
အရာတို့၏အရိပ်ဖြစ်ကြ၏၊ ကိုယ်မူကား၊ ခရစ်
၁၈ တော်၏ကိုယ်ဖြစ်၏။- ဥကျွောင်းတော်ကို အမှီမ
ပြု၊ ဇာတိပကတိ၏စိတ်နှလုံးအချည်းနှီးထောင်
လွှားလျက်၊ မိမိမသိမမြင်သောအရာကိုစူးစမ်း
လျက်၊ စိတ်နှိမ့်ချခြင်း၌၎င်း၊ ကောင်းကင်တမန်
ကိုကိုးကွယ်ခြင်း၌၎င်း မွေ့လျော်သော သူ တစုံ
တယောက်မျှ၊ သင်တို့ဆုကို မလုမယူ စေနှင့်။-
၁၉ ဥကျွောင်းတော်မှ တကိုယ်လုံးသည် အဆစ်အ
ပိုင်းအထုံးအဖွဲ့များအားဖြင့်၊ အားဖြည့်၍ထုံး
ဖွဲ့လျက်၊ ဘုရားသခင်၏ အလိုတော် နှင့် အညီ
ကြီးပွားတတ်၏။
၂၀ သင်တို့သည်ခရစ်တော်နှင့်အတူသေ၍၊လော
၂၁ ကီတရားနှမှ စုတေကြသည်မှန်လျှင်၊ မထိနှင့်၊
မမြည်းနှင့်၊မကိုင်နှင့်ဟူသောပညတ်စကားကို
လောကီအသက်ရှင်သေးသကဲ့သို့၊ အဘယ်
၂၂ ကြောင့်နားထောင်ကြသနည်း။- လူတို့၏ပညတ်
ဩဝါဒအတိုင်းစောင့်ရှောက်သော ထိုပညတ်ရှိ
သမျှတို့သည် ပုပ်ပျက်စေခြင်း အကြောင်း ဖြစ်
၂၃ ကြ၏၊-ထိုသို့သောပညတ်တို့သည်ကိုယ်အသား
ကိုဝပြောစွာ ကျွေးမွေးခြင်းနှင့်မဆိုင်၊ ကိုယ်အ
လိုအလျောက် ကိုးကွယ်ခြင်း၊ စိတ် နှိမ့်ချခြင်း၊
ကိုယ်ကာယကိုနှိပ်စက်ခြင်းနှင့်ဆိုင်၍၊ ပညာရှိ
ရောင်ဆောင်ကြ၏။

၃

၁ အထက် ဆိုခဲ့ပြီးသည်အတိုင်း၊ သင်တို့သည်
ခရစ်တော်နှင့်အတူထမြောက်ကြသည်မှန်လျှင်၊
ဘုရားသခင်၏ လက်ျာတော်ထက်မှာခရစ်တော်
သည်ထိုင်နေတော်မူရာအရပ်၌ရှိသောအထက်
၂ အရာတို့ကို ရှာကြလော့။- မြေကြီးပေါ်မှာ ရှိ
သောအရာတို့ကို စွဲလမ်းသော စိတ်မရှိကြနှင့်၊
အထက် အရာတို့ကိုသာ စိတ်စွဲလမ်းခြင်း ရှိကြ
၃ လော့။- အကြောင်းမူကား၊ သင်တို့သည် သေ
သောသူဖြစ်၍ သင်တို့အသက်သည် ခရစ်တော်
၄ နှင့်အတူဘုရားသခင်၌ဝှက်ထားလျက်ရှိ၏။-ငါ
တို့အသက်တည်းဟူသောခရစ်တော်သည်ထင်
ရှားတော်မူသော အခါ၊ ငါတို့သည်လည်း ထို
သခင်နှင့်အတူဘုန်းကြီး၍ထင်ရှားကြလတ္တံ့။
၅ ထို့ကြောင့်၊ မတရားသော မေထုန်၌ မှီဝဲခြင်း၊
ညစ်ညူးစွာကျင့်ခြင်း၊ ကိလေသာပုပန်ခြင်း၊ ဆိုး
ညစ်သောတပ်မက်ခြင်း၊ ရုပ်တုကိုကိုးကွယ်ခြင်း
ဖြစ်သောလောဘလွန်ကျူးခြင်းတည်းဟူသော၊
မြေကြီးပေါ်မှာ ရှိသောသင်တို့၏ ကိုယ်အင်္ဂါ တို့
၆ ကိုသေစေကြလော့။- ထိုအမှုများကြောင့်ဘုရား
သခင်၏အမျက်တော်သည်ငြင်းဆန်သောသူတို့
၇ အပေါ်၌သင့်ရောက်ပေ၏။- ထိုသူတို့နှင့်သင်တို့
သည်လည်း အထက်က ပေါင်းဖော်သောအခါ၊
၈ ထိုအမှုများ၌ကျင်လည်ကြ၏။- ယခုမူကား၊ ထို
အမှုအလုံးစုံတို့ကို၎င်း၊ အမျက်ထွက်ခြင်း၊ စိတ်
ဆိုးခြင်း၊ မနာလိုခြင်း၊ သူ့အသရေဖျက်အောင်
ပြောဆိုခြင်း၊ ညစ်ညူးသောစကားကိုသုံးခြင်းတို့
၉ ကို၎င်း၊ သင်တို့နှုတ်မှ ပယ်ရှင်းကြလော့။- အ
ချင်းချင်းမုသာစကားကိုမပြောမသုံးကြနှင့်၊ အ
ကြောင်းမူကား၊ သင်တို့သည် လူဟောင်း၏ အ
ကျင့်တို့နှင့် လူဟောင်း၏ကိုယ်ကို ချွတ်ပယ်၍၊-
၁၀ ဖန်ဆင်းတော်မူသောသူ၏ပုံသဏ္ဍာန်နှင့်အညီ၊
မှန်သော ပညာအားဖြင့် အသစ် ပြုပြင်သော လူ
သစ်ကို ယူတင် ဝတ်ဆောင်သော သူဖြစ်ကြ၏။-
၁၁ ထိုဖန်ဆင်း ပြုပြင်တော်မူရာ၌ ဟေလသလူမရှိ၊
ယုဒလူမရှိ၊အရေဖျားလှီးမင်္ဂလာခံခြင်းမရှိ၊ မခံ
ခြင်းမရှိ၊လူရိုင်းမရှိ၊သကုသိလူမရှိ၊ကျွန်မရှိ၊လူ
လွတ်မရှိ၊ခရစ်တော်သည်အလုံးစုံထို၌အလုံးစုံ
ဖြစ်တော်မူ၏။
၁၂ ထို့ကြောင့်၊ သင် တို့ သည် ဘုရား သခင် ရွေး
ကောက် သော သူ၊ သန့်ရှင်း သော သူ၊ ချစ် အပ်
သောသူ ကဲ့သို့၊ သနားစုံမက်ခြင်း၊ ကျေးဇူး ပြု

ခြင်း၊ စိတ်နှိမ့်ချခြင်း၊ နူးညံ့သိမ်မွေ့ခြင်း၊ စိတ်ရှည်
၁၃ ခြင်းတို့ကို ယူ၍ ဝတ်ဆောင်ကြလော့။- တ
ယောက်၌တယောက် အပြစ်တင်စရာ အခွင့်ရှိ
လျှင်၊ အချင်းချင်းသည်းခံ၍ အပြစ်ကိုလွှတ်ကြ
လော့။ခရစ်တော်သည်သင်တို့၏အပြစ်ကို လွှတ်
၁၄ တော်မူသကဲ့သို့၊ထိုနည်းတူပြုကြလော့။ စုံလင်
ခြင်းအဖွဲ့အစည်းတည်းဟူသော ချစ်ခြင်းမေတ္တာ
၁၅ ကိုထပ်၍ယူ၍ဝတ်ဆောင်ကြလော့။-သင်တို့
စိတ်နှလုံးအထဲ၌ ခရစ်တော်၏ ငြိမ်သက်ခြင်း
အုပ်စိုးစေ။ ထိုသို့အလို့ငှါသင်တို့သည်တလုံးတ
ကိုယ်တည်း၌ခေါ် ထားတော်မူခြင်းကိုခံကြသည်
ဖြစ်၍၊ကျေးဇူးတော်ကိုသိသောစိတ်ရှိကြလော့။
၁၆ ခရစ်တော်၏နှုတ်ကပတ်တရားသည်ပညာအ
မျိုးမျိုးနှင့်သင်တို့အထဲ၌ကြွယ်ဝစွာတည်နေ၍
သင်တို့သည် ဆာလံသီခြင်း၊မှစသောဓမ္မသီခြင်း
အမျိုးမျိုးအားဖြင့်၊ အချင်းချင်းတို့ကို ဆုံးမသွန်
သင်ခြင်း၊ သတိပေးခြင်းကိုပြု၍၊ နူးညွတ်သော
စိတ်နှလုံးနှင့် ဘုရားသခင်ရှေ့တော်၌ တင့်
တယ်လျောက်ပတ်စွာ သီခြင်း ဆိုကြလော့။-
၁၇ စကားပြောသော်၎င်၊ အမှုဆောင်ရွက်သော်၎င်၊
သခင်ယေရှု၏နာမတော်ကိုထောက်၍ ခပ်သိမ်း
သော အမှုတို့ကိုပြုမူလျက်၊ ကျေးဇူးတော်ကြီး
လှပါ၏ဟု၊ ထိုသခင်ကို အမှီပြု၍ ခမည်းတော်
ဘုရားသခင်ရှေ့၌ဝန်ခံကြလော့။
၁၈ အချင်းမိမ္မတို့၊ သခင်ဘုရား၌ လျောက်ပတ်
သည်အတိုင်း၊ ကိုယ်ခင်ပွန်း၏အုပ်စိုးခြင်းကို
၁၉ ဝန်ခံကြလော့။-အချင်းယောက်ျားတို့၊ကိုယ်ခင်
ပွန်းကိုချစ်ကြလော့။ကြမ်းတမ်းစွာမပြုကြနှင့်။-
၂၀ သားသမီးတို့၊မိဘစကားကိုအရာရာ၌နားထောင်
ကြလော့။ မိဘစကားကို နားထောင်ခြင်း အမှု
သည် သခင်ဘုရားနှစ်သက် တော်မူသောအမှု
၂၁ ဖြစ်၏။- အဖတို့၊ ကိုယ်သားသမီးကို စိတ်ဆိုးစေ
ခြင်းငှါမပြုကြနှင့်။ထိုသို့ပြုလျှင်၊သူတို့သည်အား
၂၂ လျော့စိတ်ပျက်ခြင်းသို့ရောက်ကြလိမ့်မည်။-အ
စေခံကျွန်တို့၊ သခင်ဘုရားကို ကြောက်ရွံ့လျက်၊
လူတို့၏စိတ်ကို နူးညွတ်စေသောသူကဲ့သို့၊ မျက်
မှောက်၌သာ နားထောင်သည်မဟုတ်၊ စိတ်နှစ်
ခွမရှိဘဲ၊ လောကီသခင်၏ စကားကို အရာရာ၌
၂၃ နားထောင်ကြလော့။- လူ၏အမှုကိုသာဆောင်
ရွက်သကဲ့သို့မဟုတ်၊ သခင်ဘုရား၏ အမှုတော်
ကိုဆောင်ရွက်သကဲ့သို့၊ပြုလေသမျှတို့၌စေတနာ
၂၄ စိတ်နှင့်ပြုကြလော့။- သင်တို့သည် သခင်ခရစ်
တော်၏အစေကို ခံကြသည်ဖြစ်၍၊ အမွေတော်
တည်းဟူသော အကျိုးကို၊ ထိုသခင်ဘုရား၏
လက်တော်မှခံရလိမ့်မည်ဟု သိမှတ်ကြလော့။-
၂၅ မတရားသောအမှုကိုပြုသောသူမည်သည်ကား၊
မိမိပြုသောအမှု၏အကျိုးအပြစ်ကိုခံရလိမ့်မည်။
အဘယ်သူ၏မျက်နှာကိုမှတ်တော်မမူ။

၄

၁ သခင်တို့၊ သင်တို့၏သခင်သည် ကောင်းကင်
ဘုံ၌ ရှိတော်မူသည်ကို သိမှတ်၍၊ ဖြောင့်မတ်
ခြင်းတရား၊ မျှခြင်းတရားနှင့် အညီ ကိုယ်ကျွန်
တို့ကိုပြုကြလော့။
ဆုတောင်းပဌနာပြုခြင်းအမှုကို အမြဲပြု၍၊
ကျေးဇူးတော်ကိုချီးမွမ်းလျက်စောင့်ရှောက်ကြ
၃ လော့။- ငါသည်ခရစ်တော်၏နက်နဲသောအရာ
၄ ကြောင့်အချုပ်အနှောင်ခံရသည်ဖြစ်၍၊ ထိုနက်
နဲသောအရာကိုဟောပြောခြင်းငှါ၊ဘုရားသခင်
သည် တရားဟောရာတံခါးကို ငါတို့အား ဖွင့်
တော်မူမည် အကြောင်းကို ၎င်း၊ ထိုနက်နဲသော
အရာကို ဟောပြောအပ်သည်နှင့်အညီ ငါဖော်
ပြမည် အကြောင်းကို၎င်း၊ ငါတို့အဘို့လည်း ဆု
၅ တောင်းကြလော့။- ပြင်ပလူတို့၏မျက်နှာကို
ထောက်လျက်၊ ပညာနှင့်ကျင့်ဆောင်၍ ကာလ
၆ အချိန်ကိုရွေးနှုတ်ကြလော့။-လူအသီးအသီးတို့
အားအဘယ်သို့ပြန်ပြောရမည်ကို သိနိုင်မည်
အကြောင်း၊ သင်တို့စကားသည်ဆားအားဖြင့်
ငန်သောအရသာနှင့် ပြည့်စုံလျက်၊ အစည်မ
ပြတ်တင့်တယ်လျောက်ပတ်ပါစေ။
၇ သခင်ဘုရား၌သစ္စာရှိသောဆရာ၊ ငါ့အိုကျွန်
ချင်းတည်းဟူသော၊ငါချစ်သောညီတုခိတ်သည်၊
ငါ၏အကြောင်းအရာ ရှိသမျှကို သင်တို့အား
၈ ဖော်ပြလိမ့်မည်။- သူသည်သင်တို့၏အကြောင်း
၉ အရာများကိုသိ၍၊ သင်တို့စိတ်နှလုံးကိုသက်
သာစေခြင်းငှါ၊ထိုသူကို၎င်း၊ သင်တို့အထဲကဖြစ်
၍သစ္စာရှိသောငါချစ်သောညီဩနေသိမ်ကို၎င်း၊
သင်တို့ဆီသို့ ငါစေလွှတ်၏။ သူတို့သည် ဤမြို့၌
ဖြစ်သမျှသော အကြောင်းအရာကို သင်တို့အား
ဖော်ပြကြလိမ့်မည်။
၁၀ ငါနှင့်အတူအကျဉ်းခံရသောသူအာရိတ္တာခု
ဗာနဗ၏တူ မာကု၊ ယုတ္တုဟုခေါ်ဝေါ်သောယေ
ရှုတို့သည် သင်တို့ကို နှုတ်ဆက်ကြ၏။ မာကုအ
တွက်သင်တို့ကိုငါမှာလိုက်ခဲ့ပြီ။သူသည်သင်တို့
၁၁ ဆီသို့ ရောက်လာလျှင် ထက်ခံ ကြလော့။- အ

ရေဖွား၊ ထိုးခြင်းကို ခံသော သူတို့တွင် ဤ သူတို့
သာ ဘုရားသခင်၏နိုင်ငံတော်အဘို့ ငါနှင့် အတူ
အမှုဆောင်သော သူဖြစ်၍၊ ငါ့စိတ်ကို သက်သာ
၁၂ စေကြ၏။-သင်တို့အထဲကဖြစ်သော၊ ခရစ်တော်
၏ကျွန်ဧပဖြသည် သင်တို့ကိုနှုတ်ဆက်၏။ သင်
တို့သည်စုံသင်လျက်၊ ဘုရားသခင်၏အလိုတော်
ကို အကုန် အစင် လေ့ကျက် လျက် တည်ကြည်
မည်အကြောင်း၊ သူသည်သင်တို့အဖို့ကာလအ
၁၃ စည်ကြိုးစား၍ဆုတောင်းတတ်၏။-သင်တို့မှစ၍
လောဒိကိမြို့နှင့်ဟေရပေါလိမြို့၌ရှိသောသူတို့အ
ဖို့ သူသည် အလွန်စေတနာစိတ် အားကြီးသည်
၁၄ ထု၊ငါသည်သူ၏သက်သေဖြစ်၏။- ငါချစ်သော
ဆေးသမားလုကာနှင့်ဒေမသည်သင်တို့ကိုနှုတ်
၁၅ ဆက်ကြ၏။- လောဒိကိမြို့၌ရှိသော ညီအစ်ကို
တို့ကိုငှင်၊ နိမ္ဖမှစ၍သူ၏အိမ်၌ရှိသောအသင်း
တော်ကိုငှင်နှုတ်ဆက်ကြလော့။
၁၆ ဤစာကို သင်တို့သည် ဖတ်ပြီးမှ လောဒိကိမြို့
အသင်းတော်ကို ဖတ်စေ ကြလော့။ ထို မြို့မှ ရ
၁၇ သောစာကိုလည်း သင်တို့ ဖတ်ကြလော့။- အာ
ခိပ္ပုကိုလည်း၊ သင်သည် သခင်ဘုရား၏ ထံ
တော်မှ ခံရပြီးသော ဓမ္မဆရာ၏ အမှုအရာ ကို
ပြည့်စုံခြင်းငှါသတိပြုပါဟုပြောကြလော့။
၁၈ ငါပေါလုသည် သင်တို့အား နှုတ်ဆက်သော
အချက်ကို ကိုယ်လက်ဖြင့် ရေးထား၏။ ငါခံရ
သော ချည်နှောင်ခြင်းကို အောင်းမေ့ကြလော့။
သင်တို့၌ကျေးဇူးတော်ရှိစေသတည်း။ အာမင်။

ကောလောသဲဩဝါဒစာပြီး၏။

---

# သက်သာလောနိတ်ဩဝါဒစာပဌမစောင်။

## FIRST THESSALONIANS.

၁

၁ ပေါလု၊ သိလွာနု၊ တိမောသေတို့သည်ခမည်း
တော်ဘုရားနှင့်သခင်ယေရှုခရစ်၌တည်ရှိသော
သက် သာ လော နိတ် မြို့သား အ သင်း တော် ကို
ကြားလိုက်ပါ၏။သခင်ယေရှုခရစ်နှင့်ငါတို့အဖ
တည်းဟူသောဘုရားသခင်အထံတော်ကကျေး
ဇူးတော်နှင့် ငြိမ်သက်ခြင်းသည် သင်တို့၌ ရှိပါ
စေသော။
၂ ငါ တို့ အဖ တည်း ဟူ သော ဘုရားသခင် ရှေ့
၃ တော်၌သင်တို့သည် ယုံကြည်သောစိတ်နှင့် အ
၄ ကျင့်ကို ကျင့်ခြင်း၊ ချစ်သော စိတ် နှင့် ကြိုး စား
အားထုတ်ခြင်း၊ ငါတို့သခင်ယေရှုခရစ်ကိုမျှော်
လင့်သော စိတ်နှင့် တည်ကြည်ခြင်းတို့ကို ငါတို့
သည် အစဉ်မပြတ် အောင်းမေ့ လျက်၊ ဘုရား
သခင်ချစ်တော်မူသောညီအစ်ကိုတို့၊ သင်တို့ခံရ
သောရွေးကောက်တော်မူခြင်းကိုသိလျက်၊သင်
တို့ အပေါင်းကို အကြောင်း ပြု သ ဖြင့်၊ ဘုရား
သခင်၏ကျေးဇူးတော်ကို ကာလအစဉ်ချီးမွမ်း
၍၊ သင်တို့ အဖို့ အလိုငှါ ဆုတောင်းပဌနာ ပြု
လျက်နေကြ၏။
၅ ငါတို့သည်သင်တို့နှင့်အတူနေသောအခါ သင်
တို့အတွက်အဘယ်သို့သောသူဖြစ်သည်ကိုသင်
တို့သိကြသည်နှင့်အညီ၊ ငါတို့ဟောပြောသော
ဧဝံဂေလိတရားသည်သင်တို့၌စကားသက်သက်
ဖြစ်သည်မဟုတ်။တန်ခိုးနှင့်ငှင်၊သန့်ရှင်းသော
ဝိညာဉ်တော်နှင့်ငှင်၊ ဝိမိတ်ကွာမရှိဘဲ အမှန်သိ
၆ ခြင်းနှင့်ငှင် ပြည့်စုံသောတရားဖြစ်၏။- သင်တို့
သည် ကြီးစွာ သော ဆင်းရဲ ခြင်းကို ခံရ သော်
လည်း၊ သန့် ရှင်း သော ဝိညာဉ်တော်နှင့် ဆိုင်
သော ဝမ်းမြောက် ခြင်းနှင့် တကွ နှုတ်ကပတ်
တရားတော်ကိုခံယူ၍၊ငါတို့ကဲ့သို့သောသူ၊သခင်
၇ ဘုရားကဲ့သို့သောသူဖြစ်ကြ၏။- သို့ဖြစ်၍၊ မာ
ကေဒေါနိပြည်၊ အခါယပြည်၌ ယုံကြည်သော
သူအပေါင်းတို့အားသင်တို့သည်ပုံသက်သေပေး
၈ သောသူဖြစ်ကြ၏။- အဘယ်သို့နည်းဟူမူကား၊
သင်တို့ထံက၊ သခင်ဘုရား၏ နှုတ်ကပတ်တရား

တော် အသံသည်၊ မာကေဒေါနိပြည်၊ အခါယ
ပြည်၌ကျော်စောသည်သာမက၊ဘုရားသခင်ကို
သင်တို့ယုံကြည်ခြင်း၏သိတင်းသည် အရပ်ရပ်
တို့၌နှံ့ပြားလေ၏၊ သို့ဖြစ်၍၊ငါတို့သည်တစုံတခု
၉ ကိုမျှပြောစရာအကြောင်းမရှိ။- ငါတို့သည်သင်
တို့အထဲသို့အဘယ်သို့ ဝင်ကြသည်အကြောင်း
အရာကိုသူတို့သည်ကိုယ်တိုင်ကြားပြောကြ၏။
အသက်နှင့်ပြည့်စုံလျက်မှန်တော်မူသောဘုရား
သခင်၏ အမှုတော်ကို သင်တို့သည် ဆောင်ခြင်း
၁၀ ငှါ၎င်း၊-ရောက်လတံ့သောဘေးဒဏ်မှငါတို့ကို
ကယ်နှုတ်သော သခင်ယေရှု တည်းဟူသော၊
သေခြင်းမှ ဘုရားသခင် ထမြောက် စေ တော်မူ
သောသားတော်သည်၊ကောင်းကင်ဘုံမှကြွလာ
တော်မူမည်အရာကို ငံ့လင့်ခြင်းငှါ၎င်း၊ ရုပ်တု
ဆင်းတုတို့ကို ပြစ်ပယ်၍၊ ဘုရားသခင် အထံ
တော်သို့ပြောင်းလဲကြသည် အကြောင်းအရာ
ကိုလည်းကြားပြောကြ၏။

၂

၁ ညီအစ်ကိုတို့၊ငါတို့သည်သင်တို့အထဲသို့ဝင်
ခြင်းအမှုသည်အချည်းနှီးမဖြစ်ကြောင်းကိုသင်
၂ တို့သည် ကိုယ်တိုင် သိကြ၏။- သင် တို့ သိ ကြ
သည်နှင့်အညီ၊ ငါတို့သည် ဖိလိပ္ပိမြို့၌ ဆင်းရဲ
ခြင်းနှင့် ညှဉ်းဆဲခြင်းကို ခံပြီးမှ၊ ဘုရားသခင်
ကိုအမှီပြု၍၊ ကြီးစွာသောတိုက်လှန်ခြင်းနှင့်အ
ကွ၊ ဘုရားသခင်၏ ဧဝံဂေလိ တရားကို သင်တို့
၃ အားရဲရင့်စွာဟောပြောကြ၏။-ငါတို့သည်မှား
ယွင်းခြင်း၊ ညစ်ညူးခြင်း၊ လှည့်ဖြားခြင်း အား
ဖြင့်၊သင်တို့ကိုတိုက်တွန်းသွေးဆောင်ကြသည်
၄ မဟုတ်။- ဧဝံဂေလိတရားကို စောင့်ထိုက်သော
သူဟူ၍၊ငါတို့ကိုဘုရားသခင်သက်ခံတော်မူသည်
နှင့်အညီ၊ လူကိုနှစ်သက်စေသကဲ့သို့မဟုတ်၊ငါ
တို့စိတ်နှလုံးကို စစ်ကြောစုံစမ်းတော်မူသော
ဘုရားသခင်ကို နှစ်သက်စေသကဲ့သို့ဟောပြော
၅ ကြ၏။- အဘယ်သို့နည်းဟူမူကား၊ သင်တို့သိ
ကြသည်နှင့် အညီ၊ ငါတို့သည် ချော့မော့သော
စကားကိုတခါမျှမသုံး၊ဖုံးထားသောလောဘ
စိတ်အလျှင်းမရှိကြောင်းကို ဘုရားသခင်သည်
၆ ငါတို့သက်သေဖြစ်တော်မူ၏။-ထိုမှတပါး၊ခရစ်
တော်၏တမန်တော်ဖြစ်၍၊လေးသောဝန်ကိုတင်
နိုင်သော်သည်း၊ လူပေးသော ဘုန်းအသရေကို
သင်တို့တွင်မရှာ၊ အခြားသူတို့တွင်လည်း မရှာ
၇ ဘဲ၊- သင်တို့တွင်ငြိမ်သက်စွာပြုကြ၏။သင်တို့

၈ ကိုချစ်သောကြောင့် နို့ထိန်းသည် မိမိသူငယ်ကို
ကျွေးမွေးပြုစုသကဲ့သို့၊ ငါတို့သည် သင်တို့ကို
နှစ်မြောစုံမက်ခြင်းနှင့်တကွ၊ ဘုရားသခင်၏ဧဝံ
ဂေလိတရားကိုမျှမက၊ကိုယ်အသက်ကိုပင်ပေး
ချင်သောစေတနာစိတ်ရှိကြ၏။
၉ ညီအစ်ကိုတို့၊ ငါ တို့ သည် ပင် ပန်း စွာ လုပ်
ဆောင်၍ကြိုးစားအားထုတ်ကြောင်းကိုသင်တို့
မှတ်မိကြ၏။သင်တို့တွင်တယောက်ကိုမျှမနှောင့်
ရှက်ခြင်းငှါ၊ ငါတို့သည် နေ့ညဉ့် လုပ်ဆောင်
လျက်၊ဘုရားသခင်၏ဧဝံဂေလိတရားကိုသင်တို့
၁၀ အား ဟောပြောကြ၏။- ငါ၏နိုင်ငံတော်နှင့် ဘုန်း
၁၀ တော်ထဲသို့ သင်တို့ကို ခေါ်သွင်း တော် မူသော
၁၂ ဘုရားသခင်နှင့်အထိုက်အလျောက်သင်တို့သည်
ကျင့်ဆောင်စေခြင်းငှါ၊ အဖသည်မိမိသားတို့ကို
ပြုသကဲ့သို့ငါတို့သည်သင်တို့ရှိသမျှကိုအဘယ်
သို့ တိုက်တွန်းသွေးဆောင်၍ မှာထားသည်ကို
သင်တို့ သိကြသည် နှင့် အညီ၊ ယုံကြည်ခြင်းသို့
ရောက်သောသင်တို့တွင် ငါတို့သည်အဘယ်သို့
သန့်ရှင်း ဖြောင့်မတ် လျက်၊ အပြစ်တင်ခွင့် နှင့်
ကင်း လွတ်လျက် နေကြသည်ကို သင်တို့ သည်
သက်သေ ဖြစ်ကြ၏။ ဘုရားသခင် သည် ထည်း
သက်သေဖြစ်တော်မူ၏။
၁၃ ငါတို့ဟောပြောသော ဘုရားသခင်၏ နှုတ်က
ပတ်တရားကို သင်တို့သည် ခံယူကြသောအခါ၊
လူ၏ နှုတ်ထွက် စကားကို မခံ မယူဘဲ၊ ဘုရား
သခင်၏နှုတ်ကပတ်တော်အမှန်ဖြစ်သည်နှင့်အ
ညီ၊ယုံကြည်ခြင်းသို့ရောက်သောသင်တို့အထဲ၌
ပြုပြင်သောဘုရားသခင်၏နှုတ်ကပတ်တရားကို
ခံယူကြသည် အကြောင်း အရာကို ငါတို့ သည်
ထောက်၍၊ ဘုရားသခင်၏ ကျေးဇူးတော်ကို အ
၁၄ စဉ်မပြတ်ချီးမွမ်းကြ၏။- အဘယ်သို့နည်းဟူ
မူကား၊ယုဒပြည်၌ယေရှုခရစ်၏ဘာသာကိုခံယူ
သောဘုရားသခင်၏အသင်းဝင်သူတို့သည် ယုဒလူ
တို့လက်မှ ဆင်းရဲ ခံရ သကဲ့သို့၊ ညီအစ်ကို တို့၊
သင်တို့သည် မိမိတို့ အမျိုးသားချင်းတို့ ထက်မှ
ထိုနည်းတူ ခံရသော အား ဖြင့်၊ ယုဒ ပြည်၌ ရှိ
သော တပည့်တော် ကဲ့သို့သော သူ ဖြစ် ကြ၏။-
၁၅ ယုဒ လူတို့သည် သခင် ယေရှု မှစ၍ ပရောဖက်
များကိုအသေသတ်ကြပြီ။ငါတို့ကိုလည်းညှဉ်း
ဆဲကြပြီ။ ဘုရားသခင်၏အလိုတော်သို့ မလိုက်၊
ခပ်သိမ်းသောလူတို့နှင့် ဆန့်ကျင်ဘက် ဖြစ်ကြ
၁၆ ၏။- တပါးအမျိုးသားတို့သည်ကယ်တင်ခြင်း

တို့ ရောက်စေခြင်းငှါ ငါတို့သည် ဟောပြောကြ
သည်ကိုသူတို့သည်ဆီးတားၾ၍၊ မိမိတို့အပြစ်ကို
အစဉ်ပြည့်စုံစေကြ၏။ သူတို့အပေါ်၌ အမျက်
တော်သည်အကုန်အစင်ရောက်ရ၏။
၁၇ ညီအစ်ကိုတို့၊ငါတို့သည်စိတ်နှစ်လုံးအားဖြင့်
မထုတ်၊ ကိုယ်အားဖြင့်သာ သင်တို့နှင့်ခဏကွာ
သည်ရှိသော်၊ သင်တို့မျက်နှာကို မြင်ခြင်းငှါအ
လွန် လွမ်းသော စိတ်နှင့် သာ၍ ကြိုး စား အား
၁၈ ထုတ်ကြ၏။– ထိုကြောင့်၊ငါပေါလုသည်သင်တို့
ရှိရာသို့လာခြင်းငှါ၊ နှစ်ကြိမ်မြောက်အောင် အ
လိုရှိသော်လည်း၊စာတန်သည်ဆီးတားလေ၏။–
၁၉ ငါတို့ မျှော်လင့် ခြင်း အကြောင်း၊ ဝမ်းမြောက်
ခြင်း အကြောင်း၊ ဝါကြွားခြင်း၏ ဦးရစ် သရဖူ
ကား၊အဘယ်သို့သောအကြောင်းအရာနည်း။ငါ
တို့သခင်ယေရှုခရစ် ကြွလာတော်မူသောအခါ၊
ရှေ့တော်၌သင်တို့သည် ထိုသို့သော အကြောင်း
၂၀ အရာဖြစ်ကြသည်မဟုတ်လော။– သင်တို့သည်
ငါတို့၏ဘုန်းအသရေ၊ ငါတို့၏ ဝမ်းမြောက်ခြင်း
အကြောင်းဖြစ်ကြသတည်း။

၃

၁ ထိုကြောင့်၊ ငါသည်တဖန်မအောင့်နိုင်သော
အခါ၊အာသင်မြို့၌တယောက်တည်းကျန်ရစ်၍
၂ နေခြင်းငှါ အလိုရှိ၏။– ခရစ်တော် ၏ ဧဝံဂေလိ
တရားကိုဟောပြော၍၊ဘုရားသခင်၏အမှုတော်
ကို လုပ်ဆောင်ဖက် ဖြစ်သော ညီ တိမောသေ
၃ ကို လွှတ်လိုက်၏။– ငါတို့ခံရသော ဆင်းရဲ
ခြင်းကြောင့် အဘယ် သူမျှ မရွေ့လျော့ မည်အ
ကြောင်း၊ သင်တို့ကိုမြဲမြံစေ၍၊ ယုံကြည်ခြင်းအ
ရာ၌သင်တို့ကို တိုက်တွန်းနှိုးဆော်စေခြင်းငှါသူ
၄ ကို ငါလွှတ်လိုက်၏။– ထိုဆင်းရဲ ခြင်းကို ခံစေ
မည်အကြောင်း၊ငါတို့ကိုခန့်ထားတော်မူသည်
ဟုသင်တို့ကိုယ်တိုင်သိကြ၏။ အဘယ်သို့နည်း
ဟူမူကား၊ ငါတို့သည် ဆင်းရဲခြင်းကို ခံရလိမ့်
မည်ဟု၊ သင်တို့နှင့်အတူရှိစဉ်အခါငါတို့ပြော
နှင့်ကြပြီ။ထိုသို့ပြောသည်အတိုင်းဖြစ်သည်ကို
၅ သင်တို့ထည်းသိကြ၏။–စုံစမ်းသွေးဆောင်တတ်
သောသူသည် သင်တို့ကို စုံစမ်း သွေးဆောင်သ
ဖြင့်၊ငါတို့ပင်ပန်းစွာလုပ်ဆောင်ခြင်းအမှုသည်
အချည်းနှီး ဖြစ်မည်ဟု စိုးရိမ်၍၊ မအောင့်နိုင်
သောအခါသင်တို့၏ယုံကြည်ခြင်းကိုသိလိုသော
ငှါငါစေလွှတ်၏။
၆ ယခု မူကား၊ တိမောသေသည် သင်တို့ ထံက
ပြန်လာ၍၊ သင်တို့၏ ယုံကြည် ခြင်းနှင့်ချစ်ခြင်း
တည်သည်ဟူ၍၎င်း၊ငါတို့သည်သင်တို့ကိုလွမ်း
သကဲ့သို့သင်တို့သည်ငါတို့ကိုလွမ်း၍၊အစဉ်မ
ပြတ်ကောင်းမွန် စွာ အောင်းမေ့ ကြသည် ဟူ၍
၎င်း၊ ဝမ်း မြောက် စရာ သိတင်း ကို ကြား ပြော
၇ သည်ရှိသော်၊– ညီအစ်ကိုတို့၊ ငါတို့သည်အရာ
ရာ၌ဆင်းရဲ၍ခက်ခဲစွာခံရသည်တွင်၊ သင်တို့၏
ယုံကြည်ခြင်းအားဖြင့်သက်သာခြင်းသို့ ရောက်
၈ ကြ၏။–ယခုမှာသင်တို့သည်သခင်ဘုရား၌တည်
၉ ကြည်လျှင်၊ ငါတို့သည် အသက်ရှင်ကြ၏။– ငါ
တို့ ၏ ဘုရား သခင် ရှေ့၌ သင်တို့၏ အကြောင်း
ကြောင့် ငါ တို့ ခံရ သော ဝမ်း မြောက် ခြင်း အ
ပေါင်းကိုထောက်၍၊သင်တို့အကြောင်းကြောင့်
ဘုရားသခင်၏ကျေးဇူးတော်ကို အဘယ်သို့ဆပ်
၁၀ နိုင်သနည်း။– သင်တို့မျက်နှာကိုမြင်၍၊ သင်တို့
ယုံကြည်ခြင်း လိုသေးသမျှကို စုံလင်စေမည် အ
ကြောင်း၊ ငါတို့သည် နေ့ညဉ့်မပြတ်အလွန်တ
ရားဆုတောင်းပဌနာပြု၍နေကြ၏။
၁၁ သင်တို့ရှိရာသို့ငါတို့သွားရာလမ်းကိုငါတို့အ
ဖတည်းဟူသော ဘုရားသခင်နှင့် ငါတို့ သခင်
ယေရှုခရစ်သည် ဖွင့်ဆင်တော်မူပါစေသော။–
၁၂ ထို သခင်သည် မိမိသန့်ရှင်းသူ အပေါင်း တို့နှင့်
အတူ ကြွ လာ တော် မူသော အခါ၊ ငါ တို့ အဖ
တည်းဟူသော ဘုရားသခင်ရှေ့မှာ၊ အပြစ်တင်
ခွင့်နှင့်ကင်းလွတ်သော သင်တို့၏စိတ်နှစ်လုံးကို
ကိုယ်တော်သည် သန့်ရှင်းခြင်းပါရမီ၌မြဲမြံနိုင်
ခံ့စိမ့်သောငှါ၊ ငါတို့သည်သင်တို့ကိုချစ်သကဲ့သို့
သင်တို့သည် အ ချင်း ချင်း ကို၎င်း၊ သူ တပါး အ
ပေါင်း တို့ကို ၎င် ချစ်၍၊ ချစ်ခြင်း မေတ္တာနှင့် အ
ထူးသဖြင့်ကြွယ်ဝပြည့်စုံမည်အကြောင်းသခင်
ဘုရားပြုတော်မူပါစေသော။

၄

၁ ကြွင်းသေးသောစကားဟူမူကား၊ ညီအစ်ကို
တို့၊ သင်တို့သည်အဘယ်သို့ကျင့်ရမည်၊ဘုရား
သခင်ကိုအဘယ်သို့ နှစ်သက်စေရမည်ကိုငါတို့
ထံ၌နည်းခံကြသည်နှင့်အညီ ထိုးပွား၍ကြွယ်
ဝပြည့်စုံမည်အကြောင်း၊ သခင်ယေရှုကို အမှီ
ပြုလျက်၊ ငါတို့သည် တောင်းပန်၍ တိုက်တွန်း
၂ သွေးဆောင်ကြ၏။– အဘယ်သို့သောပညတ်တို့
ကို သခင် ယေရှု ၏ အခွင့် တော်နှင့် ငါတို့ သည်
၃ အပ်ပေးသည်ကိုသင်တို့သိကြ၏။– ဘုရားသခင်
၏အလိုတော်ဟူမူကား၊ သင်တို့သည် မတရား

သောမေစုန်ကို ကြည့်ရှောင်၍ သန့်ရှင်းစေခြင်း
၄ ငှါဝ၊- ဘုရားသခင်ကို မသိသော သာသနာပ
လူတို့သည် ကိလေသာတပ်မက်ခြင်းရှိသကဲ့သို့
၅ မရှိ၊- သင်တို့အပေါင်းသည် သန့်ရှင်းခြင်း၊ အ
သရေတင့်တယ်ခြင်းနှင့် မိမိကိုယ်ကို မိမိ ထိန်း
၆ တတ်စေခြင်းငှါရင်၊- ဤအမှုအရာ၌ လွန်ကျူး
၍ညီအစ်ကိုကိုပရိယာယ်အားဖြင့်မပြစ်မှားစေ
ခြင်းငှါရင် အလိုတော်ရှိ၏၊ ငါတို့သည်အထက်
က ဟောပြော၍ သစ္စာ ပေးနှင့်သည် အတိုင်း၊
သခင်ဘုရားသည် ထိုသို့သော ပြစ်မှားခြင်း ကို
ခံသောသူအပေါင်းတို့ဘက်၌ တရားစီရင်တော်
၇ မူလိမ့်မည်။-ဘုရားသခင်သည်ညစ်ညူးစေခြင်း
ငှါ ငါတို့ကိုခေါ်တော်မူသည် မဟုတ်၊ သန့်ရှင်း
၈ စေခြင်းငှါ ခေါ်တော်မူ၏။- ထိုကြောင့်၊ ငါတို့ကို
ငြင်းပယ်သောသူသည်လူကိုသာငြင်းပယ်သည်
မဟုတ်၊ကိုယ်တော်၏သန့်ရှင်းသောဝိညာဉ်တော်
ကိုငါတို့အား ပေးတော်မူ သော ဘုရားသခင် ကို
ငြင်းပယ်၏။
၉ ညီအစ်ကိုချင်း ချစ်ခြင်းအရာကို သင်တို့အား
ရေး၍ပေးလိုက်စရာ အကြောင်း မရှိ၊ အဘယ်
ကြောင့်နည်းဟူမူကား၊သင်တို့သည်အချင်းချင်း
ချစ်စေခြင်းငှါ၊ ဘုရားသခင်ဆုံးမ သွန်သင်တော်
၁၀ မူသောသူ ဖြစ် ကြ၏။- ထိုမျှမက၊ မာကေဒေါနိ
ပြည်တွင် အရပ်ရပ်၌ ရှိသော ညီအစ်ကို အ
ပေါင်းတို့ကို ထိုသို့ပြုကြ၏။ သို့သော်လည်း၊ ညီ
အစ်ကိုတို့၊ သင်တို့သည်တိုးပွား၍ကြွယ်ဝပြည့်
၁၁ စုံမည်အကြောင်းနှင့်၊- ပြင်ပသူတို့ရှေ့၌လျှောက်
၁၂ ပတ်စွာကျင့်၍ အဘယ်မျှ မလိုရအောင်၊ ငါတို့
သည်အထက်ကမှာထားသည်နှင့်အညီငြိမ်ဝပ်
စွာနေ၍၊ကိုယ်အမှုကိုဆောင်ရွက်လျက်၊ကိုယ်
လက် နှင့် လုပ် ဆောင် ခြင်းငှါ စေတနာ စိတ်နှင့်
ကြိုးစား အား ထုတ် မည် အကြောင်းကို၊ ငါတို့
သည်တိုက်တွန်းသွေးဆောင်ကြ၏။
၁၃ ညီအစ်ကိုတို့၊ မျှော်လင့်ခြင်းမရှိသောအခြား
သူတို့သည် ဝမ်းနည်း သကဲ့ သို့၊ သင် တို့ သည်
ဝမ်းမနည်းမည်အကြောင်း၊ အိပ်ပျော်သောသူ
တို့၏အမှုအရာကို မသိဘဲနေစေခြင်းငှါ ငါတို့အ
၁၄ လိုမရှိ၊- ယေရှုသည်သေပြီးမှတဖန်ထမြောက်
တော်မူသည်ကိုငါတို့သည်ယုံလျှင်၊ ထိုနည်းတူ၊
ယေရှု၌အိပ်ပျော်သောသူတို့ကိုလည်း၊ ထိုသခင်
နှင့် အတူ ဘုရား သခင် ၌ ဆောင် တော် မူ လိမ့်
၁၅ မည်။- သခင်ဘုရား၏ဗျာဒိတ်တော်အားဖြင့်တ
ဖန်ငါတို့ဆိုသည်ကား၊ သခင်ဘုရားကြွလာတော်
မူသောအခါ၊ အသက်ရှင်၍ ကျန်ကြွင်းသောငါ
တို့သည် အိပ်ပျော်ပြီးသော သူတို့၏အရင် အဦး
၁၆ နေရာကျရကြမည်မဟုတ်။- သခင်ဘုရားသည်
ကြွေးကြော်ခြင်း၊ ကောင်းကင်တမန်မင်း အသံ
ပေးခြင်း၊ဘုရားသခင်၏တံပိုးတော်ကိုမှုတ်ခြင်း
နှင့် တကွ၊ ကောင်း ကင် ဘုံမှ ကိုယ် တိုင် ဆင်း
သက်တော်မူ၍၊ ခရစ်တော်၌ သေလွန်သောသူ
၁၇ တို့သည်အဦးထမြောက်ကြလိမ့်မည်။-ထိုအခါ
အသက်ရှင်၍ ကျန်ကြွင်းသော ငါတို့သည် အာ
ကာသကောင်းကင်၌ သခင်ဘုရား ထံတော်သို့
ရောက်စေခြင်းငှါ၊ ထိုသူတို့နှင့်တကွ မိုဃ်းတိမ်
ပေါ်သို့ ချီဆောင်ခြင်းကိုခံရသောအားဖြင့်သခင်
ဘုရားနှင့်အတူအစဉ်မပြတ်နေရကြလိမ့်မည်။-
၁၈ သို့ဖြစ်၍၊ ဤစကားများအားဖြင့် အချင်းချင်းတ
ယောက်ကိုတယောက်သက်သာစေကြလော့။

၅

၁ ညီအစ်ကိုတို့၊ ကပ်ကာလ အချိန်များကို သင်
တို့အားရေး၍ ပေးလိုက်စရာ အကြောင်းမရှိ။-
၂ အ ဘယ် ကြောင့် နည်း ဟူမူ ကား၊ သူခိုးသည်
ညည့်အခါလာသကဲ့သို့၊သခင်ဘုရား၏ နေ့ရက်
သည် လာလိမ့်မည်ကို သင်တို့သည် သေချာစွာ
၃ သိကြ၏။- ငြိမ်ဝပ်ခြင်းရှိ၏၊ဘေးအန္တရာယ်နှင့်
ကင်းလွတ်၏ဟု ဆိုစဉ်တွင်၊ ကိုယ်ဝန်ဆောင်
သော မိန်းမ၌ သားဖွားခြင်း ဝေဒနာ ရောက် သကဲ့
သို့၊ သူတို့အပေါ်၌လျင်မြန်စွာသောပျက်စီးခြင်း
၄ ရောက်၍ လွတ်ခြင်းအခွင့်မရှိရကြ။- သို့သော်
လည်း၊ ညီအစ်ကိုတို့၊ ထိုနေ့ရက်သည် သူခိုးကဲ့
သို့သင်တို့အပေါ်သို့ရောက်လာမည်အကြောင်း၊
သင်တို့သည် မှောင်မိုက်၌နေကြသည်မဟုတ်။-
၅ သင်တို့အပေါင်းသည်အလင်း၏သား၊နေ့၏သား
ဖြစ်ကြ၏။ ညည့်၏ သား၊ မှောင် မိုက်၏ သား မ
၆ ဟုတ်။- သို့ဖြစ်၍၊ အခြားသောသူတို့သည်အိပ်
ပျော်သကဲ့သို့၊ငါတို့သည်အိပ်မပျော်ဘဲသမ္မာသ
၇ တိရှိ၍ စောင့်ကြကုန်အံ့။- အကြောင်း မူကား၊
အိပ်ပျော်သောသူတို့သည် ညည့်အခါ အိပ်ပျော်
တတ်ကြ၏။ သေရည်သေရက်နှင့် ယစ်မူးသော
သူတို့သည်လည်း ညည့်အခါ ယစ်မူး တတ်ကြ
၈ ၏။- နေ့၏သားဖြစ်သော ငါတို့မူကား၊ သမ္မာသ
တိရှိကြကုန်အံ့။ ယုံကြည်ခြင်း၊ ချစ်ခြင်းတည်း
ဟူသောရင်အုပ်တန်ဆာကိုဝင်၊ ကယ်တင်ခြင်း
သို့ရောက်မည်ဟု မျှော်လင့်ခြင်းတည်းဟူသော

သံခမောတ်လုံးကိုဝှင် ဝတ်ဆောင်ကြကုန်အံ့။–
၉ အမျက်တော်ကို ခံစေခြင်းငှါ ဘုရားသခင်သည်
ငါ တို့ကို ခန့် ထား တော် မူသည် မဟုတ်၊ ငါတို့
သခင်ယေရှုခရစ်အားဖြင့်ကယ်တင်ခြင်းကိုမိုင်
၁၀ ရစေခြင်းငှါခန့်ထားတော်မူ၏။– ငါတို့သည် နိုး
လျှက်ရှိသည်ဖြစ်စေ၊ အိပ်ပျော်သည်ဖြစ်စေ၊ ထို
သခင်နှင့်အတူ အသက်ရှင်မည်အကြောင်း၊ ငါ
၁၁ တို့အဘို့အသေခံတော်မူပြီ။–ထိုကြောင့်၊သင်တို့
သည် ယခု ပင် ပြုသည် နည်း တူ၊ အချင်း ချင်း
တိုက်တွန်း၍ တယောက် ကို တယောက် တည်
ဆောက်ကြလော့။
၁၂ ထိုမှတပါး၊ ညီအစ်ကိုတို့၊ သင်တို့ တွင် အမှု
တော်ကို ဆောင် ရွက်ခြင်း၊ သခင်ဘုရား အခွင့်
နှင့်အုပ်စိုးခြင်း၊ သတိပေးခြင်းအမှုကို ပြုသော
၁၃ သူတို့ကိုသိမှတ်၍၊– သူတို့ပြုသော အမှုကြောင့်
မေတ္တာစိတ်နှင့် အလွန်ချစ်ခင် လေးမြတ်မည်အ
ကြောင်း၊ ငါတို့သည်တောင်းပန်ကြ၏၊ အချင်း
ချင်းအသင့်အတင့်နေကြလော့။
၁၄ တဖန်ထုံ၊ ညီအစ်ကိုတို့၊ မတရားသွား ပြုသော
သူတို့ကို သတိပေးကြလော့။ စိတ်ငယ်သောသူ
တို့ကိုအားပေးကြလော့။ အားနည်းသော သူတို့
ကို ထောက် မကြ လော့။ ခပ် သိမ်း သော သူတို့
၁၅ အားရှည်သောစိတ်ရှိစေကြလော့။– သူတပါး၌
အဘယ်သူမျှရန်တုံ့မမူစေခြင်းငှါသတိပြု၍၊ အ
ချင်းချင်းတို့၌၎င်း၊ခပ်သိမ်းသောသူတို့၌၎င်း၊ကာ
၁၆ လအစည်ကြိုးစား၍ ကျေးဇူးပြုကြလော့။– အ
၁၇ စည်မပြတ်ဝမ်းမြောက်ခြင်းရှိကြလော့။–မခြား
၁၈ မလပ်ဆုတောင်းပဌနာပြုကြလော့။– အရာရာ၌
ကျေးဇူးတော်ကို ချီးမွမ်းကြလော့။ ထိုအကြောင်း
မူကား၊သင်တို့သည်ထိုသို့ကျင့်စေခြင်းငှါ၊ ယေ
၁၉ ရှုခရစ်၌ ဘုရားသခင် အလိုတော်ရှိ၏၊– ဝိညာဉ်
၂၀ တော်၏အရှိန်ကိုမငြိမ်းစေကြနှင့်။–ပရောဖက်ပြု
၂၁ ခြင်းကိုမထီမဲ့မြင်မမှတ်ကြနှင့်။–ခပ်သိမ်းသော
အရာကို စုံစမ်း၍၊ ကောင်း သော အရာကို အမြဲ
၂၂ ကိုင်စွဲကြလော့။–မကောင်းသောအမှုအမျိုးမျိုး
၂၃ ရှိသမျှကို ရှောင်ကြလော့။– ငြိမ်သက်ခြင်း၏အ
ရှင်ဘုရားသခင်ကိုယ်တော်တိုင်လည်း၊ သင်တို့
ကို အကုန်အစင်သန့်ရှင်း စေတော်မူပါစေသော။
ငါတို့ သခင် ယေရှုခရစ် ကြွလာတော်မူသောအ
ခါ၊ သင်တို့၏ကိုယ် ခန္ဓာ စိတ်ဝိညာဉ်အပေါင်းကို
အပြစ်တင်ခွင့်နှင့်ကင်းလွတ်စေခြင်းငှါ စောင့်မ
၂၄ တော်မူပါစေသော။–သင်တို့ကိုခေါ်တော်မူသော
သူသည် သစ္စာနှင့် ပြည့်စုံသည်ဖြစ်၍၊ ထိုသို့ပြု
တော်မူလိမ့်မည်။
၂၅ ညီအစ်ကိုတို့၊ငါတို့အဘို့ဆုတောင်းကြလော့။–
၂၆ ညီအစ်ကိုအပေါင်းတို့ကိုသန့်ရှင်းသောနမ်းခြင်း
၂၇ နှင့် နှုတ်ဆက်ကြလော့။– ဤစာကို သန့် ရှင်း
သော ညီအစ်ကို အပေါင်း တို့အား ဖတ်စေခြင်း
ငှါ၊သခင်ဘုရားကိုတိုင်တည်၍ ငါသည်သင်တို့
၂၈ ကိုမိန့်မှာနိသစ္စာပေး၏။– ငါတို့သခင်ယေရှုခရစ်
၏ကျေးဇူးတော်သည်သင်တို့၌ရှိစေသတည်း။
အာမင်။

သက်သာလောနိတ်ဩဝါဒစာပဌမစောင်ပြီး၏။

---

# သက်သာလောနိတ်ဩဝါဒစာဒုတိယစောင်။

## SECOND THESSALONIANS.

---

၁

၁ ပေါလု၊သိလွာနု၊တိမောသေတို့သည်၊သင်တို့
အဖတည်းဟူသောဘုရားသခင်နှင့်သခင်ယေရှု
ခရစ်၌တည်ရှိသောသက်သာလောနိတ်မြို့သား
၂ အသင်းတော်ကိုကြားလိုက်ပါ၏။– သခင်ယေရှု
ခရစ်နှင့် ငါတို့ အဖတည်းဟူသော ဘုရားသခင်
အထံတော်က ကျေးဇူးတော်နှင့် ငြိမ်သက် ခြင်း
သည်သင်တို့၌ရှိပါစေသော။
၃ ညီအစ်ကိုတို့၊သင်တို့၏ယုံကြည်ခြင်းသည်အ
လွန်တိုးပွား၍၊ လူတိုင်း အသီးအသီး တို့သည်

အချင်းချင်းချစ်ခြင်းမေတ္တာနှင့် ပြည့်စုံကြသည်
ဖြစ်၍၊ ငါတို့သည်ပြုသင့်သည်အတိုင်း သင်တို့
ကြောင့် ဘုရားသခင်၏ကျေးဇူးတော်ကိုအစဉ်
၄ မပြတ် ချီးမွမ်းကြ၏။- သို့ဖြစ်၍၊ သင်တို့သည်
ညှဉ်းဆဲခြင်း၊ ဒုက္ခဆင်းရဲခြင်းကို ခံရသမျှတို့
၌သည်းခံ၍ယုံကြည်ခြင်းရှိသည်ကို ငါတို့သည်
ထောက်၍၊ ဘုရားသခင် ၏ အသင်းတော်များ
၅ တွင်သင်တို့ကြောင့်ဝါကြွားကြ၏။ သင်တို့သည်
ဘုရားသခင်၏နိုင်ငံတော်အတွက် ဆင်းရဲခံရ၍၊
ထိုနိုင်ငံတော်ကိုဝင်စားထိုက်သည်ဟုမှတ်တော်
မူခြင်းကို ခံရ စေခြင်း ငှါ၊ တရားသဖြင့် ဘုရား
သခင် စီရင် တော်မူခြင်း အမှုသည် ထိုသို့ သော
၆ အားဖြင့်ထင်ရှားလျက်ရှိ၏။- အဘယ်သို့နည်း
၇ ဟူမူကား၊ သခင် ယေရှု သည် တန် ခိုး ရှိ သော
၈ ကောင်းကင်တမန်တို့နှင့်အတူ၊ ကောင်းကင်ဘုံ
ကပေါ်ထွန်းတော်မူ၍ဘုရားသခင်ကိုမသိသော
သူ၊ ငါ တို့ သခင် ယေရှု ခရစ် ၏ ဧဝံဂေလိတရား
ကို နားမထောင်သော သူတို့ကို မီးလျှံအားဖြင့်
ဒဏ် ပေးတော်မူသော အခါ၊ သင်တို့ကိုဆင်းရဲ
စေဘူးသောသူတို့၌ ဆင်းရဲခြင်းကိုငင်၊ ဆင်းရဲ
ခံရ ဘူးသောသင်တို့၌ ငါ တို့နှင့်အတူ ချမ်းသာ
ခြင်းကိုငင်၊ ဘုရားသခင်သည်ဆပ်ပေး၍တရား
၉ သဖြင့် စီရင်တော်မူလိမ့်မည်။- ထိုသခင်သည်
၁၀ မိမိ သန့်ရှင်းသူတို့အားဖြင့် ဂုဏ်အသရေတော်
ထင်ရှားခြင်းကိုငင်၊ ငါတို့ သက်သေကို သင်တို့
သည် ယုံကြည်သည်ဖြစ်၍၊ ယုံကြည်သော သူ
အပေါင်းတို့အားဖြင့် အံ့ဩြာ ချီး မွမ်း ခြင်း ကို
ငင်ခံတော့သောငှါ ကြွလာတော်မူသောနေ့ရက်၌၊
ထိုသူတို့သည် သခင်ဘုရား ၏ မျက်နှာတော်နှင့်
ငင်၊တန်ခိုးရှိသောဘုန်းတော်နှင့်ငင်ကွာ၍၊ထာ
ဝရ ပျက်စီးခြင်း တည်းဟူသော အပြစ်ဒဏ်ကို
ခံရကြလတံ့။
၁၁ ထိုကြောင့်၊ငါတို့ဘုရားသခင်နှင့် အရှင်ယေရှု
၁၂ ခရစ်၏ကျေးဇူးတော်အတိုင်း၊ ထိုသခင်၏ နာမ
တော်ကို သင်တို့အားဖြင့် ဘုန်းထင်ရှားစေခြင်း
ငှါငင်၊ သင်တို့ကိုလည်းထိုသခင်အားဖြင့်ဘုန်း
ထင်ရှားစေခြင်းငှါငင်၊ သင်တို့သည်ခေါ်တော်မူ
ခြင်းကျေးဇူးကိုခံထိုက်ကြသည်ဟု မှတ်တော်မူ
၍ကောင်းမြတ်တော်မူခြင်း၏စေတနာအပေါင်း
နှင့် သင်တို့ ၏ ယုံကြည်ခြင်း အမှုကို တန်ခိုး နှင့်
ပြည့်စုံ စေတော်မူမည် အကြောင်း၊ ငါတို့ သည်
သင်တို့အဖို့အစဉ်ဆုတောင်းပဌနာပြုကြ၏။

၁ ညီအစ်ကိုတို့၊ ငါတို့သခင်ယေရှုခရစ် ကြွလာ
၂ တော်မူ၍၊ ငါ တို့သည် အထံတော်၌ စည်းဝေး
ခြင်းအရာမှာ၊ သခင်ဘုရား၏နေ့ရက်သည်ချက်
ချင်းရောက်မည်ဟူ၍၊ ဝိညာဉ်အားဖြင့်ဖြစ်
စေ၊ နှုတ်ထွက်စကားအားဖြင့်ဖြစ်စေ၊ ငါတို့စာ
ကဲ့သို့သောစာအားဖြင့်ဖြစ်စေ၊သင်တို့သည်စိတ်
ရွေ့လျော့ခြင်း၊ စိုးရိမ်တုန်လှုပ်ခြင်း၊ အလျင်တ
ဆော မရှိမည် အကြောင်း ငါတို့ သည် တောင်း
၃ ပန်ကြ၏။- အဘယ်သူမျှ သင်တို့ကို အဘယ်သို့
သောအားဖြင့်မလှည့်ဖြားစေနှင့်။ ထိုနေ့ရက်မ
ရောက်မီဖောက်ပြန်သင်းခွဲခြင်းသည်အရင်ဖြစ်
၍၊ ဒုစရိုက် လူတည်း ဟူသော ပျက် စီး ခြင်း ၏
၄ သားသည် ပေါ်လာရလိမ့်မည်။- ထို သူ သည်
ဘုရားသခင်ဟူ၍ငင်၊ဘုရားဟူ၍ငင်၊ခေါ်ဝေါ်
သမျှသော အရာတို့ကို ရန်ဘက်ပြု၍၊ ကိုယ် ကို
ကိုယ်ချီးမြှောက်သောအားဖြင့်၊ ဘုရားသခင်၏
ဗိမာန်တော်၌ဘုရားသခင်ကဲ့သို့ထိုင်၍၊ဘုရား
သခင် ဖြစ်ရောင် ဆောင်လျက် ကိုယ်ကိုပြသော
သူဖြစ်သတည်း။
၅ ငါသည် သင်တို့နှင့်အတူ ရှိစဉ်အခါ၊ ထိုအ
ကြောင်း အရာများကို ပြောပြီဟု၊ သင်တို့သည်
၆ သတိမရကြသလော။-ထိုသူသည်မိမိကာလအ
ချိန်၌ထင်ရှားစေခြင်းငှါ၊ ယခုဆီးတားသောအ
၇ ကြောင်းကိုလည်းသင်တို့သိကြ၏။-အဘယ်သို့
နည်း ဟူမူကား၊ ဖုက်ထားလျက် ရှိသော ထိုအ
ဓမ္မအရာသည် ယခုပင် ပြုပြင်ဆဲရှိ၏။ သို့သော်
လည်း၊ ဆီးတားသောသူသည်ပယ်ရှင်းခြင်းသို့
၈ မရောက်မှီတိုင်အောင်ဆီးတားလိမ့်မည်။-ပယ်
ရှင်းခြင်းသို့ရောက်သောအခါ၊ထိုအဓမ္မလူသည်
ထင်ရှားလိမ့်မည်။ ထိုအဓမ္မလူကို သခင်ယေရှု
သည်နှုတ်ထွက်ဝိညာဉ်တော်အားဖြင့်ဖျက်ဆီး
၍၊ ကြွလာတော် မူခြင်း၏ ရောင်ခြည် အား ဖြင့်
၉ ပယ်ရှားတော်မူလိမ့်မည်။- ထိုအဓမ္မလူ၏ထာ
ခြင်းအကြောင်းဟူမူကား၊ စာတန် ပြုပြင်သော
အားဖြင့် မုသာနှင့်စပ်ဆိုင်သော ထူးဆန်းသော
တန်ခိုး၊ နိမိတ်လက္ခဏာ၊ အံ့ဩယ်သောအမှုအ
၁၀ မျိုးမျိုးနှင့်ငင်၊- ပျက်စီးခြင်းသို့ရောက်သောသူ
တို့တွင်၊ မတရားသောလှည့်ဖြားခြင်းအမျိုးမျိုး
နှင့်ငင်လာလိမ့်မည်။ အကြောင်းမူကား၊ ထိုသူ
တို့သည် ကယ်တင်ခြင်းသို့ ရောက်အံ့ သောငှါ
သမ္မာတရား၌ မွေ့လျော်သော စိတ်ကို မခံမယူ

၁၁ ကြ။- ထိုကြောင့်၊ သမ္မာ တရားကို မယုံဘဲ၊ မ
၁၂ တရားသော အမှု၌ မွေ့လျော်သော သူ အပေါင်း
တို့သည် တရားရုံးခြင်းသို့ရောက်မည်အကြောင်း၊
မုသာစကားကို ယုံမိမည်သော ငှါ၊ မိစ္ဆာဗိဒ္ဓိ ပြုဖွင်
အားထုတ် ခြင်း အခွင့် ကို သူတို့၌ ဘုရားသခင်
လွှတ်တော်မူလိမ့်မည်။
၁၃ သို့သော်လည်း၊ သခင်ဘုရားချစ်တော်မူသော
ညီအစ်ကိုတို့၊ သင်တို့သည် စိတ်သန့်ရှင်းခြင်း၊
သမ္မာတရားကိုယုံကြည်ခြင်းအားဖြင့် ကယ်တင်
ခြင်းသို့ ရောက်စိမ့် သောငှါ၊ ဘုရားသခင် သည်
ရှေးဦးစွာကပင် သင်တို့ကို ရွေးကောက် တော်မူ
သည်ဖြစ်၍၊ ငါတို့သည် သင်တို့ကြောင့် ဘုရား
သခင်၏ကျေးဇူးတော်ကို အစဉ်မပြတ်ချီးမွမ်း
၁၄ ရကြမည်။-ထိုသို့အလို့ငှါငါတို့ဧဝံဂေလိတရား
အားဖြင့်သင်တို့ကိုခေါ်တော်မူပြီ။ အကြောင်း
မူကား၊ သင် တို့ သည် ငါ တို့ သခင် ယေရှုခရစ်
၁၅ ၏ဘုန်းကို ပိုင် ရ မည် အကြောင်း တည်း။- ထို
ကြောင့်၊ ညီအစ်ကိုတို့၊ ငါတို့ နှုတ်ထွက် စကား
အားဖြင့် ဖြစ်စေ၊ စာအားဖြင့် ဖြစ်စေ၊ သင် တို့
သည်သင်ခဲ့ပြီးသော နည်းဥပဒေသများကိုတည်
၁၆ ကြည်လျက်ကိုင်ယူစွဲလမ်းကြလော့။- ငါတို့ကို
ချစ်တော်မူ၍၊ထာဝရသက်သာခြင်းအကြောင်း
ကိုငှင်၊ ကျေးဇူးတော် အားဖြင့် ကောင်းသော
မျှော်လင့်ခြင်း အကြောင်းကို ငှင် ပေးတော်မူ
သော ငါတို့အဘတည်းဟူသောဘုရားသခင်နှင့်၊
ငါတို့သခင်ယေရှုခရစ်သည် ကိုယ်တော်တိုင်၊-
၁၇ သင်တို့စိတ်နှလုံးကို သက်သာစေ၍၊ ကောင်း
သောစကား၊ကောင်းသောအမှုအမျိုးမျိုး၌သင်
တို့ကိုမြဲမြံစေတော်မူပါစေသော။

၃

၁ ကြွင်းသေးသောစကားဟူမူကား၊ ညီအစ်ကို
တို့၊ သခင်ဘုရား၏နှုတ်ကပတ်တရားသည်သင်
တို့တွင်နှံ့ပြား၍ ဘုန်းထင်ရှားခြင်း ရှိသကဲ့သို့၊
၂ အရပ်ရပ်တို့၌ထင်ရှားမည်အကြောင်းနှင့်၊-အ
ကျိုးအကြောင်းကိုမသိမဟုတ်၊ ဆိုးညစ်သောသူ
တို့လက်မှ ငါတို့ကို ကယ်လွှတ်တော် မူမည် အ
ကြောင်း၊ငါတို့အမှိဆုတောင်းကြလော့။လူတိုင်း
၃ သစ္စာရှိသည်မဟုတ်။- သို့သော်လည်း၊ သခင်
ဘုရားသည်သစ္စာနှင့်ပြည့်စုံတော်မူ၏။ သင်တို့
ကိုမြဲမြံစေ၍၊ မကောင်းသောအမှုအရာနှင့်ကင်း
၄ လွတ်စေခြင်းငှါစောင့်မတော်မူလိမ့်မည်။-ငါတို့
ပညတ်သည်အတိုင်း သင်တို့သည်ယခုကျင့်ကြ
၏၊ နောက်၌လည်းကျင့်ကြလိမ့်မည်ဟု၊ သခင်
ဘုရားကိုအမှီပြု၍ငါတို့သည်ယုံမှားခြင်းမရှိ။-
၅ ဘုရားသခင်ကို ချစ်စေခြင်းငှါငှင်၊ ခရစ်တော်၏
နည်းတူ သည်းခံစေ ခြင်း ငှါ ငှင်၊ သခင် ဘုရား
သည် သင်တို့ စိတ်နှလုံးကို ဖွင်ဆင်တော် မူပါ
စေသော။
၆ တနည်းကား၊ညီအစ်ကိုတို့၊ငါတို့ထံ၌ခံသော
နည်းဥပဒေသအတိုင်းမကျင့်ဘဲ၊ မတရားသွားဖြ
သောညီအစ်ကိုရှိသမျှတို့ကို ရှောင်ကြလော့ဟု၊
ငါတို့သခင် ယေရှုခရစ်၏နာမတော်အားဖြင့် ငါ
၇ တို့သည်ပညတ်ထားကြ၏။- အကြောင်းမူကား၊
ငါတို့ပေးသော ပုံသက်သေကို လိုက်၍ သင်တို့
သည် အဘယ်သို့ကျင့်ရမည်ဟု၊ သင်တို့ ကိုယ်
တိုင်သိကြ၏။ငါတို့သည်သင်တို့တွင်မတရားသွာ
၈ ပြုကြသည်မဟုတ်။-အဘယ်သူ၏အစာကို မျှအ
လိုအလျောက်မစား။ သင်တို့တွင်တယောက်ကို
မျှမနှောင့်ရှက်ခြင်းငှါ၊ပင်ပန်းစွာကြိုးစား၍အား
၉ ထုတ်၍ နေ့ညဉ့်မပြတ်လုပ်ဆောင်ကြ၏။- ထို
သို့ပြုသော်လည်း၊ မခံမယူ ပိုင်သောကြောင့် ပြု
သည်မဟုတ်။ သင်တို့လိုက်စရာအို့ ပုံသက်သေ
၁၀ ဖြစ်စေခြင်းငှါပြုကြ၏။- အဘယ်သို့နည်း၊ တူမူ
ကား၊သင်တို့နှင့်အတူရှိစဉ်အခါ၊ အလုပ်မလုပ်
ချင်သော သူ မည်သည်ကား၊ အစာကိုလည်း မ
၁၁ စားစေနှင့်ဟုပညတ်ထားကြပြီ၊- မတရားသွားဖြ
၍ အဘယ် အလုပ် ကို မျှ မလုပ်ဘဲ၊ ကိုယ် နှင့်မ
ဆိုင်သော အမှု၌ရောနှောသောသူအချို့တို့သည်
သင်တို့တွင် ရှိကြောင်းကို ငါတို့ ကြားရကြ၏။-
၁၂ ထိုသို့သော သူတို့သည် ငြိမ်ဝပ်စွာ လုပ်ဆောင်
၍၊ ကိုယ် အစာကို စားမည် အကြောင်း၊ ငါတို့
သခင် ယေရှုခရစ် အားဖြင့် ငါတို့ သည် ပညတ်
၁၃ ထား၍၊တိုက်တွန်းသွေးဆောင်ကြ၏။- ညီအစ်
ကိုတို့၊ အားလျော့ စိတ်ပျက်ခြင်းမရှိဘဲ ကောင်း
သောအကျင့်ကိုကျင့်ကြလော့။
၁၄ ဤစာ၌ ငါတို့ရေးထားသော ပညတ်တော်ကို
တစုံ တယောက်သော သူသည် နားမထောင်ဘဲ
နေလျှင်၊ ထိုသူကို မှတ်ကြလော့။ ရှက်ကြောက်
၁၅ စေခြင်းငှါ အပေါင်း အဖော် မလုပ်ကြနှင့်။- သို့
သော်လည်း၊ ရန်သူကဲ့သို့မဟုတ်၊ညီအစ်ကိုကဲ့သို့
၁၆ မှတ်၍ သတိ ပေးကြလော့။- ငြိမ်သက်ခြင်း၏
သခင် သည် ကိုယ်တော်တိုင် သင်တို့၌ အစဉ်
မပြတ်၊ ခပ်သိမ်းသောအမှုအရာအားဖြင့်၊ ငြိမ်
သက်ခြင်းကို ပေးသနားတော် မူ ပါစေ သော

သခင်ဘုရားသည် သင်တို့အပေါင်းနှင့်အတူရှိ
တော်မူပါစေသော။
၁၇ ငါပေါလုသည် သင်တို့ကို နှုတ်ဆက်ခြင်းအ
ချက်ကို ကိုယ်လက်နှင့် ရေးထား၏။ ဤသို့ရေး
ထားလေ့ရှိ၍၊ ငါရေးသမျှသော ဩဝါဒစာ၏
၁၈ ထက္ခဏာဖြစ်၏။– ငါတို့သခင်ယေရှုခရစ်၏
ကျေးဇူးတော်သည် သင်တို့အပေါင်းနှင့်ရှိစေသ
တည်း။ အာမင်။

သက်သာလောနိတ်ဩဝါဒစာဒုတိယစောင်ပြီး၏။

---

# တိမောသေဩဝါဒစာပဌမစောင်။

## FIRST TIMOTHY.

၁

၁ ငါတို့ကိုကယ်တင်တော်မူသောအရှင်ဘုရား
သခင်နှင့်၊ ငါတို့မျှော်ထင့်ခြင်းအကြောင်းဖြစ်
သော ယေရှုခရစ်၏ ပညတ်တော်အားဖြင့်၊ ထို
သခင်၏ တမန်တော်ဖြစ်သော ငါပေါလုသည်၊–
၂ ယုံကြည်ခြင်းအားဖြင့်သားစစ်ဖြစ်သောတိမော
သေကိုကြားလိုက်ပါ၏။ ငါဖို့သခင်ယေရှုခရစ်
နှင့် ငါတို့အဖတည်းဟူသော ဘုရားသခင်အထံ
တော်ကကျေးဇူး၊ကရုဏာ၊ ငြိမ်သက်ခြင်းရှိပါ
စေသော။
၃ ခြားနားသောအယူဝါဒသစ်ကိုမသွန်သင်ကြ
၄ နှင့်ဟူ၍၎င်၊ ပဏ္ဍာရီစကားကို နားမထောင်ကြ
နှင့်ဟူ၍၎င်၊ ယုံကြည်ခြင်း၌တည်သောဘုရား
သခင်၏ သာသနာတော်ကို ပြုစုသည်ထက်၊ အ
ချင်းချင်းငြင်းခုံခြင်းကိုသာ၍ပြုစုတတ်သော၊ဟုင်
ဆင်၍မကုန်နိုင်သော ဆွေစည်မျိုးဆက် စာရင်း
များကိုပမာဏမပြုကြနှင့်ဟူ၍၎င်၊ သင်သည်အ
ချို့သောသူတို့ကိုပညတ်ထား၍၊ ဧဖက်မြို့၌နေရစ်
စေခြင်းငှါ၊ငါသည်မာကေဒေါနိပြည်သို့သွားသော
အခါ၊တောင်းပန်သည်အတိုင်းနေရစ်လော့။
၅ ထိုသို့ပညတ်ထားခြင်း၏အချုပ်အချာမူကား၊
စင်ကြယ်သော စိတ် နှစ်လုံး နှင့်၎င်၊ ကိုယ်ကို
ကိုယ်သိသော စိတ်ကြည်လင်ခြင်း နှင့်၎င်၊ မှန်
သောယုံကြည်ခြင်းနှင့်၎င်၊ စပ်ဆိုင်သောချစ်ခြင်း
၆ မေတ္တာ ဖြစ် သတည်း။– ထိုသို့သော အကျင့်ကို
လူအချို့တို့သည် အမြဲမကျင့်၊ အချည်းနှီးသော
စကားပြောခြင်းသို့လွှဲသွားကြပြီ။ထိုသူတို့သည်
၇ ဓမ္မတို့ပြောသောအရာကိုနားမလည်၊ အဘယ်
သို့သော တရားအကျက်၌ ဓမ္မတို့ခိုင်မာစွာနေသည်
ကို မသိဘဲလျက်၊ နိသ္သရည်းဆရာ လုပ်ချင်ကြ
၈ သည်တကား။– ပညတ်တရားကို တရားသဖြင့်
၉ ကျင့်သော သူအဖို့မထား။ မတရားသဖြင့် ကျင့်
၁၀ သောသူ၊ နားမထောင်သောသူ၊ ဘုရားကိုမကိုး
ကွယ်သောသူ၊ အပြစ် ထင်ရှားသောသူ၊ မသန့်
ရှင်းသောသူ၊ ဘုရားတရားကိုမရိုမသေပြုသော
သူ၊မိဘကိုညှဉ်းဆဲသောသူ၊လူအသက်ကိုသတ်
သောသူ၊ မတရားသော မေထုန်၌ မှိုဲသောသူ၊
ယောက်ျားချင်း မေထုန်ကို ပြုသောသူ၊ လူကိုခိုး
သွားသောသူ၊ မုသာစကားကိုသုံးသောသူ၊ မ
ဟုတ်မမှန်ဘဲ ကျိန်ဆိုသောသူမှစ၍၊ စင်ကြယ်
သောဩဝါဒနှင့်ဆန့်ကျင်ဘက်ဖြစ်သမျှတို့အဖို့
ပညတ်တရားကို ထားသည်ဟု သိမှတ်၍၊ ထို
တရားကို တရားသဖြင့် သုံးသောသူ၌ ပညတ်
တရားသည် အကျိုးကို ပေးတတ်သည်ဟု ငါတို့
၁၁ သိကြ၏။-ထိုသို့ဆိုသော်၊မင်္ဂလာရှိတော်မူသော
ဘုရားသခင်၏ ဘုန်းကြီးသော ဧဝံဂေလိတရား
နှင့်ညီသတည်း။
၁၂ ထိုတရားကိုငါ၌အပ်ပေးတော်မူသည်ဖြစ်၍၊
ငါကို ခွန်အားနှင့် ပြည့်စုံစေတော်မူသော ငါတို့
သခင်ယေရှုခရစ်၏ကျေးဇူးတော်ကို ငါချီးမွမ်း
၁၃ ၏။– ငါသည်ကဲ့ရဲ့သောသူ၊ ညှဉ်းဆဲသောသူ၊
ကြမ်းကြုတ်သောသူဖြစ်သော်လည်း၊သစ္စာ
ရှိသောသူဟုထိုသခင်သည်မှတ်၍၊ ဓမ္မဆရာအ
ရာ၌ခန့်ထားတော်မူ၏။ ထိုသို့ငါပြုသောအခါ

ယုံကြည်ခြင်းမရှိ၊ အမှန်မသိဘဲပြုသောကြောင့်၊ကရု
၁၄ ဏာတော်ကို ငါခံရပြီ။- ငါတို့သခင်ဘုရား၏
ကျေးဇူးတော်သည် ထည်း ယေရှုခရစ်၌ ယုံ
ကြည်ခြင်း၊ ချစ်ခြင်းနှင့်တကွ၊ အတိုင်းထက်အ
၁၅ လွန်ကြွယ်ဝပြီ။- ယေရှုခရစ်သည် အပြစ်ရှိ
သောသူတို့ကိုကယ်တင်ခြင်းငှါ၊ ဤလောကသို့
ကြွလာတော်မူသည်ဟူသောစကားသည်သစ္စာ
စကားဖြစ်၏။ အကြွင်းမဲ့ခံယူအပ်သော စကား
လည်းဖြစ်၏။ အပြစ်ရှိသောသူတို့တွင် ငါသည်
၁၆ အကြီးဆုံးဖြစ်၏။- သို့သော်လည်း၊ ထာဝရအ
သက်အလိုငှါ ယုံကြည်ထတ့်သောသူတို့ လိုက်
စရာပုံသက်သေဖြစ်စေခြင်းငှါ၊ အကြီးဆုံးသော
အပြစ်ရှိသောငါ၌၊ ယေရှုခရစ်သည် ခပ်သိမ်း
သောခန္တီတော်ကိုပြတော်မူမည်အကြောင်း၊ ငါ
၁၇ ကိုသနားတော်မူပြီ။- လောကဓာတ်တို့၏ဘုရင်
တည်းဟူသော၊သေကပ်ပြန်ပျက်စီးခြင်းနှင့်ကင်း
လွတ်တော်မူထသော၊ မျက်မြင်မရ၊ အရူပဖြစ်
တော်မူထသော၊ တဆူတည်းသော ဘုရားသခင်
သည် ကမ္ဘာအဆက်ဆက်ဂုဏ်အသရေ၊ ဘုန်း
အာနုဘော်ရှိတော်မူစေသတည်း။ အာမင်။
၁၈ ငါသားတိမောသေ၊ သင့်ကိုရည်မှတ်၍ ဟော
ပြောခဲ့ပြီးသော အနာဂတ္တိ စကားကို သင်သည်
အမှီပြု၍၊ယုံကြည်ခြင်းကိုငှင်၊ ကိုယ်ကိုကိုယ်သိ
သောစိတ်ကြည်လင်ခြင်းကိုငှင်စွဲလမ်း၍ကောင်း
သောစစ်ကိုတိုက်စေခြင်းငှါ၊ ထားခဲ့ပြီးသောထို
အနာဂတ္တိစကားနှင့်အညီ၊ အထက် ငါဆိုခဲ့ပြီး
သော ပညတ်ထားခြင်း အခွင့်ကို သင်၌ ငါအပ်
၁၉ ပေး၏။- ထိုယုံကြည်ခြင်း မှစသည်တို့ကို အချို့
သော သူတို့သည် ပယ်ပြီးလျှင်၊ ယုံကြည်ခြင်း
၂၀ သင်္ဘောပျက်၍ဆုံးရှုံးကြပြီ။- ထိုသူတို့တွင် ဟု
မေနဲနှင့်အာလေဇန္ဒြပါသတည်း။ထိုသူတို့သည်
ကဲ့ရဲ့သော စကားကို ကြည်ရှောင်ခြင်း ငှါ သင်
ရမည် အကြောင်း၊ စာတန်၏ ထက်သို့ ငါအပ်
လိုက်ခဲ့ပြီ။

၂

၁ ငါတို့သည် ဘုရားဝတ်၌ မွေ့လျော် ခြင်း၊
၂ လျောက်ပတ်စွာကျင့်ခြင်းအမျိုးမျိုးကိုပြု၍၊ငြိမ်
ဝပ်ဆိတ်ညံစွာနေရမည်အကြောင်း၊ ရှင်ဘုရင်မှ
စ၍မင်းအာဏာရှိသောသူအပေါင်းတို့နှင့်လူအ
မျိုးမျိုးတို့အဖို့ ဆုတောင်းပဌနာပြုခြင်း၊ မေတ္တာ
ဒိုခြင်း၊ ကျေးဇူးတော်ကို ချီးမွမ်းခြင်းကို ရှေ့ဦး
စွာပြုစေခြင်းငှါ ငါတိုက်တွန်း သွေးဆောင်၏။-
၃ အကြောင်းမူကား၊ထိုသို့သောအမှုသည်ကောင်း
သော အမှုဖြစ်၏။ ငါတို့ကိုကယ်တင်တော်မူ
သောအရှင် ဘုရားသခင် နှစ်သက်တော်မူသော
၄ အမှုထည်းဖြစ်၏။- လူအပေါင်းတို့သည် ကယ်
တင်ခြင်းသို့ရောက်၍ သမ္မာတရားကိုသိစေခြင်း
၅ ငှါ၊ ဘုရားသခင်အလိုတော်ရှိ၏။- ဘုရားသခင်
တဆူတည်းရှိတော်မူ၏။ဘုရားသခင်နှင့်လူတို့၏
စပ်ကြားမှာ၊ လူဖြစ်သောယေရှုခရစ်တည်းဟူ
၆ သောအာမခံတဦးတည်းရှိ၏။-ထိုအာမခံသည်
လူအပေါင်းတို့ကိုရွေးအံ့သောငှါကိုယ်ကိုကိုယ်
စွန့်တော်မူပြီ။ ကာလ အချိန်တန်မှ သက်သေခံ
၇ ခြင်းရှိ၏။- ငါသည်ထိုသက်သေခံသောသူအရာ
၌ငှင်၊တမန်တော်အရာ၌ငှင်၊ယုံကြည်ခြင်းတရား
နှင့် သမ္မာတရားကို တပါးအမျိုးသားတို့ အား
ဟောပြောသော ဆရာအရာ၌ငှင် ခန့်ထားတော်
မူသောသူဖြစ်သည်ထု ငါဆိုသော်၊ မုသာစကား
ကိုမဆို၊မှန်သောစကားကို ဆို၏။
၈ သို့ဖြစ်၍၊ အရပ်ရပ်တို့၌ယောကျ်ားတို့သည်
အမျက်ထွက်ခြင်း၊ ငြင်းခုံခြင်းမရှိဘဲ၊ သန့်ရှင်း
သော လက်ကို ချီ၍ ဆုတောင်း စေခြင်းငှါ ငါအ
၉ လိုရှိ၏။-ထိုနည်းတူ၊မိန်းမတို့သည်ကျစ်သောဆံပင်၊
ရွှေတန်ဆာ၊ ကျောက်ပုလဲ၊ အဘိုးထိုက်သော
အဝတ်နှင့်ကိုယ်ကိုမဆင်ဘဲ၊ရှက်ကြောက်ခြင်း၊
ဣန္ဒြေစောင့်ခြင်းအားဖြင့်၊ လျောက်ပတ်သော
၁၀ အဝတ်နှင့်ငှင်၊- ဘုရားသခင်အား ရိုသေ ထေး
မြတ်ခြင်းကိုဝန်ခံပြုစုသော မိန်းမဆင်သင့်သည်အ
တိုင်းကောင်းသောအကျင့်နှင့်ငှင်၊ကိုယ်ကိုတန်
၁၁ ဆာဆင်စေခြင်းငှါ ငါအလိုရှိ၏။- မိန်းမသည်အုပ်
စိုးခြင်းကို အစည်ဝန်ခံ၍ ငြိမ်ဆိတ်စွာ သင်
၁၂ စေ။- မိန်းမသည်ဆုံးမဩဝါဒပေးခြင်း၊ယောကျ်ား
ကို အစိုးတရပြုစေခြင်း အခွင့်ကို ငါမပေး။ သူ
၁၃ သည် တိတ်ဆိတ်စွာနေအပ်၏။- အကြောင်းမူ
ကား၊ အာဒံကို ရှေ့ဦးစွာ ဖန်ဆင်းတော်မူ၍၊
၁၄ နောက်မှဧဝကိုဖန်ဆင်းတော်မူ၏။- ထိုမှတပါး၊
အာဒံသည်လှည့်ဖြားခြင်းကိုမခံ၊မိန်းမသည်လှည့်
၁၅ ဖြားခြင်းကိုခံ၍လွန်ကျူး၏။- သို့သော်လည်း၊
ဣန္ဒြေစောင့်ခြင်း၊ နှင့်တကွ ယုံကြည် ခြင်း၊ ချစ်
ခြင်း၊ သန့်ရှင်းခြင်း၌တည်လျှင်၊ သားဖွားခြင်း
အမှု၌ကယ်တင်ခြင်းသို့ရောက်လိမ့်မည်။

၃

၁ သင်းအုပ် အရာကို တောင့်တသော သူသည်
ကောင်းသော အမှုအရာကို တောင့်တသည်ဟူ

၂ သော စကား သည် မှန် သော စကားဖြစ်၏။- ထို
ကြောင့်၊ သင်းအုပ်သည်အပြစ်တင်ခွင့်နှင့်ကင်း
လွတ်သောသူ၊မယားတယောက်တည်းရှိသော
သူ၊သမ္မာသတိရှိသောသူ၊ ဣန္ဒြေစောင့်သောသူ၊
ယောကျ်ာတ်ပတ်စွာ ကျင့်သောသူ၊ ဧည့်သည်ဝတ်
ကိုပြုတတ်သောသူ၊ဆုံးမဩဝါဒပေးတတ်သော
၃ သူဖြစ်ရမည်။- စပျစ်ရည်နှင့်ပျော်မွေ့ခြင်း၊ သူ
တပါးကိုရိုက်ပုတ်ခြင်း၊ မစင်ကြယ်သော စီး
ပွားကိုတပ်မက်ခြင်းမရှိ။ စိတ်ပြည်းညှင်းသော
သူ၊ ရန်မတွေ့တတ်သောသူ၊ ငွေကိုမတပ်မက်
၄ သောသူဖြစ်ရမည်။- မိမိအိမ်ကိုကောင်းမွန်စွာ
အုပ်စိုး၍သမ္မာသမာဓိရှိသည်နှင့်၊ မိမိသားသမီး
၅ ကို ဆုံးမနိုင်သော သူဖြစ်ရမည်။- မိမိအိမ်ကိုမ
အုပ်စိုးတတ်လျှင်၊ ဘုရားသခင်၏အသင်းတော်
၆ ကိုအဘယ်သို့ပြုစုလိမ့်မည်နည်း။- မာနနှင့်ထစ်
မူးလျှက်၊ မာရ်နတ်၏ အပြစ် ရောက်မည်ဟု မိုး
၇ မိမ်စရာရှိ၍၊ အသာသာဝင်လူသစ်မဖြစ်ရ။- ကဲ့ရဲ့
ပြစ်တင်ခြင်း၊ မာရ်နတ် ဖမ်းမိ ခြင်း နှင့် ကင်း
လွတ်မည်အကြောင်း၊ ပြင်ပလူတို့တွင် အသရေ
ရှိသောသူဖြစ်ရမည်။
၈ ထိုနည်းတူ၊ သင်းထောက်တို့သည်တဉ်ကြည်
သောသူဖြစ်ရကြမည်။ လျှာနှစ်ခွနှင့်ပြောသော
သူ၊ စပျစ်ရည်ကိုသောက်ကျူးသောသူ၊ မစင်
ကြယ်သော စီးပွားကိုတပ်မက်သောသူမဖြစ်ရ
၉ ကြ။-ကိုယ်ကိုကိုယ်သိသောစိတ်စင်ကြယ်သည်
နှင့်၊ ယုံကြည်ခြင်း၏နက်နဲသောအရာကို စွဲ
၁၀ ထမ်းသောသူဖြစ်ရကြမည်။- သူတို့သည်လည်း
ရှေ့မဆွက စုံစမ်းခြင်းကို ခံကြစေ။ နောက်မှ အ
ပြစ်တင်ရှင့် နှင့် ကင်းလွတ်လျှင်၊ သင်းထောက်
၁၁ လုပ်ကြစေ။-ထိုနည်းတူ၊မိန်းမတို့သည်တည်ကြည်
သောသူဖြစ်ရကြမည်။ ချောစားတတ်သောသူမ
ထုတ်၊သမ္မာသတိရှိသောသူ၊ အရာရာ၌သစ္စာရှိ
၁၂ သောသူဖြစ်ရကြမည်။- သင်းထောက်သည်မ
ယားတယောက်တည်းရှိရမည်။ မိမိ သားသမီး
နှင့် အိမ်သူအိမ်သားတို့ကို ကောင်းမွန်စွာ အုပ်
၁၃ စိုးသောသူဖြစ်ရမည်။- အကြောင်းမူကား၊
သင်းထောက်အမှုကို ကောင်းစွာ ရွက်ဆောင်
သောသူတို့သည် မိမိတို့အဖို့ကောင်းသောအရာ
ကိုငှင်၊ ယေရှုခရစ်၏ယုံကြည်ခြင်း၌ရဲရင့်ခြင်း
အတ္တိကိုငှင်အမြတ်ရကြ၏။
၁၄ သင်ရှိရာသို့ ငါမြန်မြန် လာမည်ဟု မျှော်လင့်
၁၅ ခြင်းရှိသော်ထည်း၊ တာရှည်စွာ နေလျှင်၊ သင်
သည် ဘုရားသခင်၏ အိမ်တော်၌ အဘယ်သို့
ကျင့်ကြံပြုမူရမည်ကိုသိစေခြင်းငှါ ဤသို့ငါရေး
၍ပေးလိုက်၏။ ထိုအိမ်တော်ကား၊ အသက်ရှင်
တော်မူသော ဘုရားသခင်၏ အသင်းတော်ဖြစ်
၏၊ထိုအသင်းတော်ကား၊သမ္မာတရား၏အမှီတ
ကဲဖြစ်၏။ သမ္မာတရား၏တည်ရာလည်းဖြစ်၏။-
၁၆ မှန်သောကိုးကွယ်ခြင်း၏နက်နဲသောအရာသည်
ကြီးစွာသော အရာဖြစ်သည်ဟု ငြင်းခုံရန် မရှိ။
ဘုရားသခင်သည် ကိုယ်ခန္ဓာ၌ပေါ်ထွန်းတော်
မူပြီ။ ဟုတ်မှန်တော်မူခြင်း အကြောင်းသည်
ဝိညာဉ်တော်အားဖြင့်ထင်ရှားပြီ။ ကောင်းကင်
တမန်တို့သည် ကိုယ်တော်ကိုရှုမြင်ရကြပြီ။ တ
ပါးအမျိုးသားတို့သည် သိတင်းတော်ကို ကြား
ရကြပြီ။လောကီသားတို့သည်ယုံကြည်ရကြပြီ။
ဘုန်း အသရေ နှင့် တကွ အထက်သို့ ဆောင်ယူ
ခြင်းကိုခံတော်မူပြီ။

၄

၁ ဝိညာဉ်တော်သည် အတည့်အထင်း ဗျာဒိတ်
၂ ထားတော်မူသည်ကား၊ နောင်ကာလ၌ ဩတ္တပ္ပ
စိတ်တွင်သံပူနှင့် ခတ်ခြင်းကိုခံပြီးလျှင်၊ မုသာ
စကားကိုပြောတတ်သော သူတို့၏လျှို့ဝှက်ခြင်း
အားဖြင့်၊လူအချို့တို့သည်ယုံကြည်ခြင်းကိုစွန့်
ပယ်၍၊ လှည့်ဖြားတတ်သော စိတ်ဝိညာဉ်တို့၌
၎င်း၊ နတ်ဘုရားတို့နှင့် စပ်ဆိုင်သောဩဝါဒတို့၌
၃ ၎င်းမှီဝဲဆည်းကပ်ကြလိမ့်မည်။-မင်္ဂလာဆောင်
ခြင်းအမှုကို မပြုရဟူ၍၎င်း၊ ယုံကြည်၍ သမ္မာ
တရားကိုသိသောသူတို့သည် ကျေးဇူးတော်ကို
သိသောစိတ်နှင့်တကွ၊ သုံးဆောင်ရာဘုရားသခင်ဖန်
ဆင်းတော်မူသော အစာအမျိုးကိုရှောင်ရမည်ဟူ
၄ ၍၎င်း ပညတ်ထားကြလိမ့်မည်။- ဘုရားသခင်
၅ ဖန်ဆင်းတော်မူသမျှသည် သုံးစရာကောင်း၏။
ကျေးဇူးတော်ကိုသိသောစိတ်နှင့်ခံယူလျှင်၊ အ
ဘယ်အရာကိုမျှမပယ်မရှောင်ရ။ အကြောင်းမူ
ကား၊ ဘုရားသခင်၏ နှုတ်ကပတ်တရားတော်
အားဖြင့်၎င်း၊ဆုတောင်းခြင်းအားဖြင့်၎င်း၊အရာ
ရာတို့သည်စင်ကြယ်လျှက်ရှိကြ၏။
၆ ဤစကားများကိုသင်သည် ညီအစ်ကိုတို့အား
ကြားပြောလျှင်၊ယုံကြည်ချက်စကား၊ကိုယ်တိုင်
ရှာဖွေလေ့ကျက်သော သမ္မာဩဝါဒစကားနှင့်
မွေးမြူခြင်းကို ခံသော ယေရှုခရစ်၏ ဓမ္မဆရာ
၇ ကောင်းဖြစ်လိမ့်မည်။-မိမ္မအိုပြောတတ်သော၊
တရားမဲ့ဖြစ်သောဗဏ္ဏာရီစကားကိုပယ်ရှား၍

ဘုရားဝတ်၌ မွေ့လျော်ခြင်းအားဖြင့် ကိုယ်ကို
၈ ကိုယ်ဆုံးမလော့။-ကိုယ်ကာယကိုဆုံးမခြင်းသည်
များစွာသောအကျိုးကိုမပေးတတ်။ဘုရားဝတ်
၌မွေ့လျော်ခြင်းမူကား၊ယခုဘဝ၊နောင်ဘဝနှင့်
၉ စပ်ဆိုင်သောဂတိတော်ကိုရသည်ဖြစ်၍၊- အ
ရာရာ၌အကျိုးကိုပေးတတ်သည်ဟူသောစကား
သည် သစ္စာစကားဖြစ်၏။ အကြွင်းမဲ့ခံယူအပ်
၁၀ သောစကားလည်းဖြစ်၏။-ထိုကြောင့်၊အသက်
ရှင်တော်မူသော၊ လူအပေါင်းတို့ကို ကယ်မ
တော်မူ၍၊ ယုံကြည်သောသူတို့ကိုအထူးသဖြင့်
ကယ်မတော်မူသော ဘုရားသခင်၌ ငါတို့သည်
ကိုးစားသည်နှင့်အညီ၊ ပင်ပန်းစွာ အမှုဆောင်
၁၁ ရွက်ကြ၏၊ ကဲ့ရဲ့ခြင်းကိုလည်းခံရကြ၏။- ယခု
ဆိုခဲ့ပြီးသည် အတိုင်း ပညတ်ထားခြင်း၊ ဆုံးမ
သြဝါဒပေးခြင်းကိုပြုလော့။
၁၂ သင်၏ အသက်အရွယ်နုပျိုသည်ကို အဘယ်
သူမျှ မထီမဲ့ မြင် မပြုစေနှင့်။ စကား ပြောခြင်း၊
ကျင့်ကြံပြုမူခြင်း၊ သူတပါးကို ချစ်ခြင်း၊ ဝိညာဉ်
သဘောရှိခြင်း၊သစ္စာစောင့်ခြင်း၊စင်ကြယ်ခြင်း
အရာမှာ၊ ယုံကြည်သောသူတို့အား ပုံသက်သေ
၁၃ ကိုပြလော့။-ငါမလာမှီတိုင်အောင်၊ကျမ်းစာကို
ဖတ်ခြင်း၊ တိုက်တွန်းသွေးဆောင်ခြင်း၊ဆုံးမသြ
၁၄ ဝါဒ ပေးခြင်းကို ကြိုးစား၍ ပြုလော့။- ဗျာဒိတ်
တော်ကိုခံ၍၊ သင်းအုပ်များတို့သည် လက်တင်
ခြင်းနှင့်တကွ၊ သင်၌အပ်ပေးသော ဆုကျေးဇူး
၁၅ ကို မပြုစုဘဲ မနေနှင့်။- သင်၏ တိုးပွားခြင်းကို
လူအပေါင်း တို့ အား ထင်ရှား စေခြင်းငှါ၊ ဤအ
ရာများကို စိတ်စွဲလမ်း၍ ကြိုး စား အား ထုတ်
၁၆ လော့။-ကိုယ်ကိုငဲ့၊ကိုယ်ဆုံးမသြဝါဒကိုငဲ့သ
တိပြု၍အမြဲတည်နေလော့၊ ထိုသို့ပြုလျှင်၊ကိုယ်
ကိုငဲ့၊ နားထောင်သောသူတို့ကိုငဲ့ ကယ်တင်
လိမ့်မည်။

## ၅

၁ အသက်ကြီးသောသူကိုကြပ်တည်းစွာမဆုံးမ
နှင့်၊အဖကဲ့သို့မှတ်၍တောင်းပန်လော့၊လူပျိုတို့
၂ ကိုညီအစ်ကို ကဲ့သို့ငဲ့၊- အသက်ကြီးသော မိန်းမ
တို့ကိုအမိကဲ့သို့ငဲ့၊ မိန်းမပျိုတို့ကိုအလွန်စင်ကြယ်
သောအခြင်းအရာနှင့်တကွ၊ နှမကဲ့သို့ငဲ့ မှတ်
၃ ၍ကျင့်လော့။- မုဆိုးမအမှန်ဖြစ်သောမိန်းမတို့ကို
၄ မစလုပ်ကျွေးလော့။- သားမြေးရှိသော မုဆိုးမ
ဖြစ်လျှင်၊ ထိုသားမြေးတို့သည်ရှေ့ဦးစွာဘုရား
ဝတ်ကို ရည်မှတ်လျက်၊ မိမိအိမ်ကိုပြုစု၍ မိဘ
အိုးအွား၌ကျေးဇူးဆပ်ခြင်းငှါသင်ကြစေ။ ထို
အမှုသည် ဘုရား သခင် နှစ်သက် တော်မူသော
၅ အမှုဖြစ်၏။- မုဆိုးမ အမှန် ဖြစ်၍ တယောက်
တည်း ကျန်ရစ်သောမိန်းမသည်၊ ဘုရားသခင် ကို
ကိုးစား၍ ဆုတောင်းပဌနာပြုခြင်း၌ နေ့ညဉ့်မ
၆ ပြတ် တည်နေတတ်၏။- ကာမဂုဏ် စည်းစိမ်၌
ပျော်မွေ့သော မုဆိုးမမူကား၊ အသက် ရှိလျက်
၇ ပင်အသေဖြစ်၏။-ထိုသူတို့ကိုအပြစ်တင်ခွင့်နှင့်
ကင်းလွတ်စေခြင်းငှါ ဤသို့ပညတ်ထားလော့။-
၈ မိမိ လူတို့ကို မပြုစု၊ ထိုမျှမက၊ မိမိ အိမ်သူ အိမ်
သားတို့ကို မပြုစုသော သူမည် သည် ကား၊ ယုံ
ကြည်ခြင်းတရားကိုငြင်းပယ်၏။မယုံကြည်ဘူး
သောသူထက်သာ၍ယုတ်မာ၏။
၉ မုဆိုးမသည် အ သက် ခြောက် ဆယ် မ ပြည့်
လျှင်၊စာရင်းအင်းမဝင်စေနှင့်။ ထင်တယောက်
၁၀ တည်းရှိဘူးသောသူ၊- ကောင်းသောအကျင့်ကို
ကျင့်၍ အသရေရှိသောသူ၊ သူငယ်တို့ကို ကျွေး
မွေးခြင်း၊ဧည့်သည်ဝတ်ကိုပြုခြင်း၊သန့်ရှင်းသူ
တို့၏ခြေကိုဆေးခြင်း၊ဆင်းရဲသောသူတို့ကိုလုပ်
ကျွေးခြင်း၊ ကောင်းသော အမှုရှိသမျှတို့၌ ကြိုး
စားအားထုတ်ခြင်းကို ပြုဘူးသော သူဖြစ်လျှင်၊
၁၁ စာရင်းအင်းဝင်စေ။- အသက်အရွယ်နုပျိုသော
မုဆိုးမတို့ကိုပယ်လော့။ အကြောင်းမူကား၊ ထို
သူတို့သည်ခရစ်တော်၏ ဆုံးမခြင်းကိုသည်းမခံ။
၁၂ အိမ်သင့်ခြင်းငှါ အလိုရှိလျှင်၊- အရင် သစ္စာကို
ဖျက်သောကြောင့် အပြစ် သင့် ခြင်းသို့ ရောက်
၁၃ ကြလိမ့်မည်။- ထိုမှတပါး၊ တအိမ်မှတအိမ်သို့
လည်၍ပျင်းရိတတ်ကြ၏။ပျင်းရိသည်သာမက၊
စကားများ၍ မပြောအပ်သောအရာကို ပြောသ
ဖြင့်၊ကိုယ်နှင့်မဆိုင်သောအမှု၌ ရောနှောသော
၁၄ သူဖြစ် တတ် ကြ၏။- ထို ကြောင့်၊ အသက် အ
ရွယ်နုပျိုသော မုဆိုးမတို့သည် အိမ် သင့် ခြင်း၊
သားဖွားခြင်း၊ အိမ်မှုကိုကြည့်ရှုပြုစုခြင်း၊ ကဲ့ရဲ့
စရာအခွင့်ကို ရန်သူအား မပေးဘဲ နေခြင်းအမှု
၁၅ များကိုပြုစေခြင်းငှါငါအလိုရှိ၏။- အကြောင်းမူ
ကား၊ ယခုပင်အချို့တို့သည် ထမ်းထွဲ၍စာတန်
၁၆ နောက်သို့ လိုက် သွား ကြပြီ။- ယုံ ကြည် သော
ယောကျာ်းမိန်းမ၌ မုဆိုးမရှိလျှင်၊ ကိုယ်တိုင်လုပ်
ကျွေးစေ။ သို့ပြုလျှင်၊ အမှန် ဖြစ်သောမုဆိုးမတို့
ကိုအသင်းတော်သည်အနှောင့်အရှက်မရှိစေဘဲ
လုပ်ကျွေးနိုင်လိမ့်မည်။
၁၇ ကောင်းမွန်စွာအုပ်သော သင်းအုပ်ဆရာသည်

အလှူနှစ်ဆကို ခံထိုက်သောသူဖြစ်သည် ဟူ၍
၎င်၊တရားဟောခြင်း၊ ဆုံးမဩဝါဒပေးခြင်းအမှု
ကို ကြိုးစားအားထုတ် သောသူတို့သည်၊ အလှူ
နှစ်ဆကိုအထူးသဖြင့်ခံထိုက်သောသူဖြစ်သည်
၁၈ ဟူ၍၎င်မှတ်ရမည်။- အကြောင်းမူကား၊ စပါး
နင်းနယ်သော နွား၏နှုတ်ကို မချုပ်တည်းရဟု
ကျမ်းစာထား၏၊ တချက်ကား၊လုပ်ဆောင်သော
သူသည်အခကို ခံထိုက်ပေသည်ဟုလာပြန်၏။-
၁၉ သက်သေခံနှစ်ဦး၊ သုံးဦးမရှိလျှင်၊ သင်းအုပ်၌
အပြစ်တင်သော စကားကို နား မထောင် နှင့်။-
၂၀ ကြွင်းသော သူတို့သည် ကြောက်စေခြင်းငှါ အ
ပြစ် ရှိသော သူတို့ကို လူအပေါင်း တို့ရှေ့မှာ အ
၂၁ ပြစ်တင်၍ဆုံးမလော့။-ရှေ့မဆွကမစီရင်၊ငဲ့ကွက်
သောစိတ်နှင့်အလျှင်းမပြုဘဲ၊ ဤပညတ်များကို
စောင့်ရှောက်မည်အကြောင်း၊ ဘုရားသခင်နှင့်
သခင်ယေရှုခရစ်ရှေ့မှာ၎င်၊ ရွေးကောက်တော်
မူသောကောင်းကင်တမန်တို့ရှေ့မှာ၎င်၊ငါသည်
သင့်ကိုသစ္စာပေး၏။
၂၂ အဘယ်သူ၏ အပေါ်၌ လက်ကို အလျင် တ
ဆော မတင်နှင့်၊သူတပါးအပြစ်၌မဆက်ဆံနှင့်၊
၂၃ ကိုယ်ကို ကိုယ်စင်ကြယ်စေလော့။- သင်၏ရင်
ထဲ၌အကျိုးဖြစ်စေခြင်းငှါ၎င်၊ မကြာမကြာခံရ
သောရောဂါကြောင့်၎င်၊ ယခုမှစ၍ ရေကိုသာမ
သောက်ဘဲ၊စပျစ်ရည်အနည်းငယ်ကိုသုံးလော့။-
၂၄ အချို့သောသူတို့၏ဒုစရိုက်သည် ရှေ့မဆွကထင်
ရှား၍၊ အပြစ် စီရင်ခြင်းသို့ အရင် အဦး သွား
တတ် ၏၊ အချို့ သော သူ တို့ ၏ ဒုစရိုက် သည်
၂၅ နောက် သို့ လိုက်တတ် ၏။- ထိုနည်းတူ၊ အချို့
သောသူတို့၏သုစရိုက်သည်ထင်ရှားနှင့်တတ်၏၊
မထင်ရှားသေးသောသုစရိုက်ကိုလည်း ဖုံးကွယ်၍
မထားနိုင်။

၆

၁ ဘုရားသခင်၏နာမတော်နှင့်တရားတော်သည်
ကဲ့ရဲ့ခြင်းနှင့် ကင်းလွတ်မည်အကြောင်း၊ အစေ
ခံကျွန် မည်သည် ကား၊ မိမိ သခင်ကို အလွန်ရို
၂ သေထိုက်သော သူဟူ၍ မှတ်စေ။- သခင်သည်
ယုံကြည်သောသူဖြစ်လျှင်၊ ညီအစ်ကိုဖြစ်သည်
ဟုမိတ်ထင်နှင့်၊ မခန့်မညားမပြုစေနှင့်၊ အစေခံ
ခြင်း၏ အကျိုး၊ ကို ခံရ သော သူသည် ယုံကြည်
သောသူ၊ ချစ်အပ်သောသူဖြစ်သောကြောင့်သာ
၍ အစေခံစေ၊ ဤသို့ ဆုံးမ ဩဝါဒ ပေး၍ တိုက်
တွန်းသွေးဆောင်လော့။
၃ ခြားနားသော ဩဝါဒ ကို ထင် ပေး၍၊ ငါ တို့
သခင် ယေရှု ခရစ်၏စကား တည်းဟူသော စင်
ကြယ်သောစကားကို၎င်၊ဘုရားဝတ်၌မွေ့လျော်
ခြင်းနှင့် အညီ ဖြစ် သော ဩဝါဒ ကို၎င် ဝန်မခံ
၄ သောသူမည်သည်ကား၊- မာနနှင့်ယစ်မူး၍ အ
လျှင်းနားမထည်ဘဲ၊ပုစ္ဆာအမေးကိုဆွေးနွေး၍
စကားကြောင့်သာငြင်းခုံသောအနာဖြင့်မိတ်ပေါ့
သောသူဖြစ်၏၊ ထိုသို့ပြုလျှင်၊ ငြူစူခြင်း၊ ရန်တွေ့
ခြင်း၊သူအသရေကိုရှုတ်ချခြင်း၊မနာလိုသောကြံ
၅ စည်ခြင်း၊- စိတ်နှစ်လုံးယိုယွင်း၍၊သမ္မာတရား
နှင့်ကင်းသောသူတို့၏ အချည်းနှီးဆွေးနွေးခြင်း
ဖြစ်တတ်၏၊ဘုရားဝတ်၌မွေ့လျော်ခြင်းသည်အ
ကျိုးစီးပွားဖြစ်သည်ဟု၊သူတို့သည်မိတ်ထင်ကြ
၆ ၏၊ ထိုသို့သောသူတို့ကို ရှောင်လော့။- ရောင့်ရဲ
သော မိတ်ပါလျှင်၊ ဘုရားဝတ်၌ မွေ့လျော်ခြင်း
၇ သည် ကြီးစွာ သော အကျိုး စီးပွား မှန်၏။- အ
ကြောင်းမူကား၊ ငါတို့သည်ဤလောကထဲသို့အ
ဘယ်အရာမျှမပါဘဲလာသည်ဖြစ်၍၊ထွက်သွား
လျှင်လည်း၊အဘယ်အရာကိုမျှယူ၍မသွားနိုင်
၈ ဟုထင်ရှားလျက်ရှိ၏။- သို့ဖြစ်၍၊စားရန်၊ဝတ်
၉ ရန်ရှိသမျှနှင့်ရောင့်ရဲလျက်နေကြကုန်အံ့။- ငွေ
ရတတ်ခြင်းငှါ အလိုရှိသောသူတို့သည် အပြစ်
သွေးဆောင်ခြင်း၊ ဖမ်းမိခြင်း၊ မိုက်မဲ ဖျက်ဆီး
တတ်သော တပ်မက်ခြင်းများ ထဲသို့ ကျ ရောက်
တတ်ကြ၏၊ ထိုသို့သောအားဖြင့် လူတို့သည်အ
ကျိုးနည်းခြင်း၊ ပျက်စီးခြင်း၌ နစ်မွန်းတတ်ကြ
၁၀ ၏။- အကြောင်း မူကား၊ ငွေကို တပ် မက် ခြင်း
သည် မကောင်းသောအမှုအပေါင်းတို့တွင်မူလ
အမြစ်ဖြစ်သတည်း၊လူအချို့တို့သည်ငွေကိုတပ်
မက်သောကြောင့် ယုံကြည်ခြင်း တရားထမ်းမှ
လွဲသွား၍၊ ပူပန်ခြင်းဝေဒနာများနှင့်ကိုယ်ကို
ကိုယ်ထုတ်ချင်းခပ်အောင်ထိုးကြပြီ။
၁၁ သို့ဖြစ်၍၊ အိုဘုရားသခင်၏လူ၊သင်သည်ထို
အပြစ်များကိုကြည်ရှောင်လော့၊ ဖြောင့်မတ်စွာ
ကျင့်ခြင်း၊ဘုရားဝတ်၌မွေ့လျော်ခြင်း၊ ယုံကြည်
ခြင်း၊ချစ်ခြင်း၊သည်းခံခြင်း၊ နူးညံ့သိမ်မွေ့ခြင်း
၁၂ တို့ကို မှီအောင်လိုက်လော့။- ယုံကြည်ခြင်းနှင့်
ဆိုင်၍ ကောင်း စွာ သော တိုက် လှန် ခြင်း ကို ပြု
လော့၊ ထာဝရအသက်ကိုကိုင်ယူလော့၊ ထိုအ
သက်ကိုရမည်အကြောင်း၊သင်သည်ခေါ်တော်မူ
ခြင်းကိုခံရ၍၊ သက်သေအများတို့ရှေ့၌ကောင်း
၁၃ မွန်စွာဝန်ခံပြီ။-ငါတို့သခင်ယေရှုခရစ်ထံ၌ရှား

ပေါ်ထွန်းတော်မူသည် တိုင်အောင်၊ သင်သည်
အညစ်အကြေးနှင့် ကင်းစင်၍ အပြစ်တင်ခွင့်မ
ရှိဘဲလျှက်၊ပညတ်တော်ကိုစောင့်ရှောက်မည်အ
၁၄ ကြောင်း၊- အလုံးစုံတို့ကိုအသက်ရှင်စေတော်မူ
သော ဘုရားသခင် ရှေ့မှာ၎င်း၊ ပုန္တိပိလတ်မင်း
ထံ ကောင်းသောဝန်ခံခြင်းအကျင့်ကို သက်သေခံ
တော်မူသောယေရှုခရစ်ရှေ့မှာ၎င်း၊ငါသည်သင့်
၁၅ ကိုပညတ်ထား၏။-မင်္ဂလာနှင့်ကင်းလွတ်သော
၁၆ သူတပါးဘည်းဖြစ်တော်မူထသော၊အဘယ်သူ
မျှမချဉ်းကပ်နိုင်သော အလင်းထဲ၌ နေတော်မူ
ထသော၊ အဘယ်သူမျှမမြင်ဘူးရာ၊မမြင်နိုင်ရာ
ဖြစ်တော်မူထသော၊မင်္ဂလာရှိသောတပါးတည်း
သောအရှင်ဖြစ်တော်မူထသော၊ဘုရင်တကာတို့
၏ဘုရင်၊ သခင်တကာတို့၏သခင်သည်၊ ကာလ
အချိန် ရောက် သောအခါ၊ သခင် ယေရှုခရစ်၏
ထင်ရှား ပေါ်ထွန်း ခြင်းကို ပြတော် မူလိမ့်မည်။
ထိုဘုရားသခင်သည် ထာဝရ ဂုဏ်အ သရေ ဖ
စွမ်းသတ္တိရှိတော်မူစေသတည်း။ အာမင်။
၁၇ ဤအဝဌင်ငွေရတတ်သောသူတို့သည်မာန်မာန
မိတ်နှင့် ကင်းလွတ်၍၊ မမြဲသော စည်းစိမ်ကို မ
ကိုးစားဘဲ၊ငါတို့ခံစားဖို့ရာအလုံးစုံတို့ကိုကြွယ်
ဝစွာပေးသနားတော်မူသော၊အသက်ရှင်တော်
မူသောဘုရားသခင်ကိုကိုးစားရမည်အကြောင်း
၁၈ နှင့်၊- သူတပါးအား ကျေးဇူးပြုခြင်း၊ ကောင်း
သောအကျင့်၌ ကြွယ်ဝပြည့်စုံခြင်း၊ စွန့်ကြဲချင်
သောစေတနာစိတ်ရှိခြင်း၊ အချင်းချင်း ဆက်ဆံ
၁၉ ခြင်း၊- မှန်သောအသက်ကိုဝင်စားလိုသော၄ါ၊
နောင်အဝ၌ကောင်းသောအလျှောက်ပံ့မိမိတို့အဖို့
ဆည်းဖူးခြင်းတို့ကိုပြုရမည်အကြောင်းပညတ်
ထားလော့။
၂၀ အိုတိမောသေ၊သင့်၌အပ်ထားသောအရာကို
စောင့်ရှောက်လော့။ တရားမဲ့ဖြစ်သောအချည်း
နှီးစကားပြောခြင်းကို၎င်း၊ သိပ္ပံအတတ်ဟူ၍အ
လွဲ ခေါ်ဝေါ်သော သိပ္ပံအတတ် ဆီးတားနှောင့်
၂၁ ရှက်ခြင်းကို၎င် ရှောင်လော့။- ထိုသိပ္ပံ အတတ်
ကိုလူအချို့တို့သည်ဝန်ခံပြု၍သောအားဖြင့်၊ယုံ
ကြည်ခြင်းတရားလမ်းမှလွဲကြပြီ။ သင်၌ ကျေး
ဇူးတော်ရှိစေသတည်း။ အာမင်။

တိမောသေသြဝါဒစာပဌမစောင်ပြီး၏။

---

# တိမောသေသြဝါဒစာဒုတိယစောင်။

## SECOND TIMOTHY.

၁

၁ ယေရှုခရစ်၌ တည်သောအသက်ကိုပေးမည်
ထု ဂတိတော်နှင့်အညီ၊ ဘုရား သခင် ၏ အလို
တော်အားဖြင့်၊ ယေရှုခရစ် ၏ တမန်တော် ဖြစ်
သော ငါ ပေါလုသည် ချစ်သား တိမောသေကို
၂ ကြားလိုက် ပါ၏။- ငါတို့သခင် ယေရှုခရစ် နှင့်
ခမည်းတော် ဘုရားသခင် အထံတော်က ကျေး
ဇူး၊ကရုဏာ၊ငြိမ်သက်ခြင်းရှိပါစေသော။
၃ သင်၏ မျက်ရည်ကို ငါအောက်မေ့သောအခါ၊
၄ ဝမ်း မြောက် ခြင်းနှင့် ပြည့်စုံမည် အကြောင်း၊
၅ သင့်ကိုတွေ့မြင်ခြင်း၄ါအလွန်လွမ်းသော မိတ်ရှိ
သဖြင့်၎င်း၊သင်၏အဖွားလောဣ၊အမိဥနိတ်၌အ
ရင်တည်သောယုံကြည်ခြင်းတည်းဟူသော၊ ငါ
သဘော ကျသည်အတိုင်း၊ သင်၌ ထည်း တည်
သော ယုံကြည်ခြင်းစစ်ကို မှတ်မိ သဖြင့်၎င်း၊ နေ့
ညဥ့်မပြတ်ဆုတောင်းပဌနာပြုသည်တွင်၊သင့်ကို
မခြားမလပ် အောင်းမေ့သည်ဖြစ်၍၊ ဘိုးဘေး
ကိုးကွယ်သည်အတိုင်း၊ကိုယ်ကိုကိုယ်သိသော
မိတ် စင်ကြယ် ခြင်းနှင့်တကွ ငါကိုးကွယ် သော
ဘုရားသခင်၏ကျေးဇူးတော်ကိုငါချီးမွမ်း၏။
၆ ထိုသို့ဖြစ်၍၊ ငါလက်တင်သောအားဖြင့်သင်
၌ ဘုရားသခင် ပေးတော်မူသော ဆုကို နိုးဆော်
မည်အကြောင်း၊ ငါသည်သင့်ကို သတိပေး၏။-
၇ အကြောင်းမူကား၊ ဘုရားသခင်သည် ကြောက်

တတ်သောစိတ်သဘောကိုငါတို့အား ပေးတော်
မူသည် မဟုတ်၊ တန်ခိုးပါသောစိတ်၊ ချစ်တတ်
သောစိတ်၊ ရှင်းလင်းသောစိတ်သဘောကိုပေး
၈ တော်မူ၏။- ထိုကြောင့်၊ ငါတို့သခင် ဘုရား ၏
သက်သေကိုငှင်၊ ထိုသခင်ကြောင့် အကျဉ်းခံရ
သောသူဖြစ်သောငါကိုငှင်ရှက်ကြောက်ခြင်းမရှိ
နှင့်။ ဘုရားသခင်ပေးတော်မူသော တန်ခိုးကို ရ
သည်အတိုင်း ဧဝံဂေလိ တရားနှင့် ဆက် ဆံ၍
၉ ဆင်းရဲဒုက္ခကို ခံလော့။- ဘုရားသခင်သည် ငါ
တို့ ကျင့်သောအကျင့်ကို ထောက်တော်မမူ။ ရှေး
ကမ္ဘာကာလမရောက်မှီ၊ ယေရှုခရစ်အားဖြင့် ငါ
တို့အဖို့ ကိုယ်တော်တိုင် ကြံစည်တော်မူသော
ကျေးဇူးတော်နှင့်အညီ ငါတို့ကို ကယ် တင် ၍၊
၁၀ သန့်ရှင်းသောအရာ၌ခေါ်သွင်းတော်မူ၏။- ထို
ကျေးဇူးတော်ကား၊ ငါတို့ကို ကယ် တင် သော
သခင် ယေရှုခရစ် ပေါ်ထွန်းသည် အရာမှာ ယခု
ထင်ရှားလျက် ရှိ၏။ ထိုသခင်သည် သေခြင်းအ
ကြောင်းကို ပယ် ရှား၍၊ အ သက် ရှင် ခြင်း အ
ကြောင်းနှင့်မဖောက်ပြန်ခြင်းအကြောင်းကိုဧဝံ
၁၁ ဂေလိတရားအားဖြင့်ထင်ရှားစေတော်မူပြီ။-ထို
တရားကို ဟောပြောသောသူအရာ၌ငှင်၊ တမန်
တော်အရာ၌ငှင်၊ တပါး အမျိုးသားတို့၏ ဆရာ
၁၂ အရာ၌ ငှင် ငါ ကို ခန့် ထား တော် မူ ပြီ။- ထို အ
ကြောင်းကြောင့် ဤဆင်းရဲဒုက္ခကိုငါခံရ၏။ သို့
သော်လည်းရှက်ကြောက်ခြင်းမရှိ။ အဘယ်သူ
ကိုငါယုံကြည်သည်ဟုငါသိ၏၊သူ၌ငါအပ်ထား
သော အရာ ကို လည်း၊ ထို နေ့ရက် တိုင် အောင်
စောင့်နိုင်တော်မူသည်ဟုငါသဘောကျ၏။
၁၃ ထိုသို့ကြားရပြီးသော၊စင်ကြယ်သောတရား
စကားအချုပ်အချာကို၊ ယေရှုခရစ်၌ ယုံကြည်
၁၄ ခြင်း၊ ချစ်ခြင်းနှင့် တကွ စွဲထမ်းလော့။- သင်၌
အပ်ထားသော အရာမြတ်ကို ငါတို့၌ ကျိန်းဝပ်
တော်မူ သော သန့်ရှင်းသောဝိညာဉ်တော်အား
ဖြင့်စောင့်ရှောက်လော့။
၁၅ အာရှပြည်၌နေသောသူအပေါင်းတို့သည် ငါ
ကိုပယ်ကြပြီဟု၊ သင်သည်ကြားသိ၏၊ထိုသူတို့
၁၆ တွင်ဖုဂေလုနှင့်ဟေရမောဂင်ပါသတည်း။-ထာ
ဝရဘုရား၏ကရုဏာတော်သည်ဩနေသိဖော်၏
အိမ်၌သက်ရောက်ပါစေသော။ သူသည်ငါကိုအ
ခန်ခန် အသက်သာစေပြီ။ ငါ၌ သံကြိုးချည်နှောင်
လျက်ရှိသော်လည်း၊သူသည်ရှက်ကြောက်ခြင်း
၁၇ မရှိဘဲ၊- ရောမမြို့သို့ ရောက် သော အခါ သာ၍
၁၈ ကြိုးစားလျက်ငါကိုရှာ၍တွေ့၏။- သူသည်ထိုနေ့
ရက်၌သခင်ဘုရား၏ထံတော်မှ ကရုဏာတော်ကို
ခံရမည်အကြောင်း၊ ထာဝရဘုရားသည်ပေးသ
နားတော်မူပါစေသော။သူသည်ဧဖက်မြို့၌လည်း
ငါ့ကို အဘယ်မျှလောက်ပြုစုသည်ကို သင်သည်
အမှန်သိ၏။

၂

၁ သော၊ သင်သည်ယေရှုခရစ်၌ရှိသောကျေး
၂ ဇူးတော်အားဖြင့် ခိုင်ခံ့ခြင်း ရှိလော့။- သက်
သေခံအများ၊ရှိသည်နှင့်ငါထံ၌ ကြားရပြီးသော
အရာတို့ကို၊ သစ္စာနှင့်ပြည့်စုံ၍ သူတပါးတို့ကို
သွန်သင် ခြင်းငှါ၊ တတ်စွမ်း နိုင် သော သူတို့၌
၃ အပ်ပေးလော့။-ထိုသို့အလိုငှါသင်သည်၊ယေရှု
ခရစ်ထံ၌ ကောင်းသော စစ်သူရဲ ကဲ့သို့၊ ဆင်းရဲ
၄ ဒုက္ခကိုသည်းခံလော့။-စစ်သူရဲမည်သည်ကား၊
မိမိကို စစ်သူရဲအရာ၌ ခန့်ထား သော သူကို နှစ်
သက်စေခြင်းငှါ၊လောကီမှုရေးနှင့်ပြွမ်းနှောရှုပ်
၅ ထွေးခြင်း ကို ပယ် ရှား တတ်၏။- ပွဲ၌ လု ချင်း
တိုက်သောသူမည်သည်ကား၊ထုံးတမ်းအတိုင်း
၆ မတိုက်လျှင်ပန်းဦးရစ်ကိုမရ။-လယ်လုပ်သော
သူသည်လည်းအရင်လုပ်ပြီးမှ အသီးအနှံကိုခံ
၇ ရမည်။- ငါစကားကို ဆင်ခြင် လော့။ ထာဝရ
ဘုရားသည် အရာရာတို့၌ ဉာဏ်ကို သင့်အား
ပေးသနားတော်မူပါစေသော။
၈ ဒါဝိဒ်အမျိုး ဖြစ် သော ယေရှုခရစ်သည်၊ ငါ
ဟောသောဧဝံဂေလိတရားအတိုင်း၊ သေခြင်းမှ
ထမြောက် တော်မူသည်ဟု အောင်းမေ့လော့။-
၉ ထို တရားကြောင့် ငါ သည် လူ ဆိုး ကဲ့သို့ ချည်
နှောင်ခြင်းတိုင်အောင် ဆင်းရဲဒုက္ခကိုခံရ၏။ သို့
သော်လည်း၊ ဘုရားသခင်၏နှုတ်ကပတ်တရား
၁၀ တော်သည်ချည်နှောင်ခြင်းနှင့်ကင်းလွတ်၏။ ထို
ကြောင့်၊ ရွေးကောက်တော်မူသော သူတို့သည်၊
ထာဝရဘုန်းအသရေနှင့်တကွ ယေရှုခရစ်အား
ဖြင့်ကယ်တင်ခြင်းသို့ ရောက်စိမ့်သောငှါ၊ သူတို့
၁၁ အဖို့အရာရာကို ငါသည်းခံရ၏။- သစ္စာစကား
ဟူမူကား၊ ထို သခင်နှင့်အတူ သေလျှင်၊ အတူ
၁၂ ရှင်လိမ့်မည်။- သည်းခံလျှင်၊ထိုသခင်နှင့်အတူ
မိုးစံလိမ့်မည်။ ထိုသခင်ကိုငါတို့သည် ငြင်းပယ်
၁၃ လျှင်၊ငါတို့ကိုငြင်းပယ်တော်မူလိမ့်မည်။- ငါတို့
သည်မယုံကြည်သော်လည်း၊ထိုသခင်သည်သစ္စာ
တည်သဖြင့်ကိုယ်ကိုငြင်းပယ်တော်မမူနိုင်။
၁၄ ဤအကြောင်းအရာများကို သူတပါးတို့အား

သတိပေးလော့။ အထယ်စကြီး ကိုမျှ မငြိုးမငြင်ခုံ
ကြားနာသော သူတို့၏ မိတ်ကို ဖောက်ဖျက် လို
သော၄ါ၊ စကားကြောင့်သာ ငြင်းခုံခြင်းကို မပြု
မည် အကြောင်း၊ သခင်ဘုရားရှေ့၌ သစ္စာပေး
၁၅ လော့။- သင်မူကား၊ ဝန်ခံတော်မူသောသူ၊ ရှက်
ကြောက်စရာအကြောင်းမရှိဘဲ၊ သစ္စာတရားကို
မှန်ကန်စွာပိုင်းခြားတတ်သောဆရာသမားဖြစ်
လျက်၊ဘုရားသခင်ရှေ့၌ကိုယ်ကိုကိုယ်ဆက်သ
၁၆ ခြင်း၌ကြိုးစားအားထုတ်လော့။- တရားမဲ့ဖြစ်
သော အချည်းနှီး စကားကို ရှောင်လော့။ အ
ကြောင်းမူကား၊ ထိုစကားသည် မတရားသော
၁၇ အမှုတို့ကိုပွားများစေလိမ့်မည်။-သူတို့၏စကား
သည် နူနာကဲ့သို့စားလိမ့်မည်။ ထိုသူတို့တွင် ဟု
၁၈ မေနဲနှင့်ဖိလက်ပါသတည်း။- သူတို့ကား၊ သေလွန်
သောသူတို့သည်ထမြောက်ကြပြီဟုပြောလျက်၊
သစ္စာတရားလမ်းမှ လွဲသွား၍၊ အချို့သောသူ
တို့၏ ယုံကြည်ခြင်းကို ဖောက်ဖျက်တတ်ကြ၏။-
၁၉ သို့သော်လည်း၊ သခင်ဘုရားသည် မိမိလူတို့ကို
သိကျွမ်းတော်မူ၏ဟူ၍၎င်း၊ သခင်ဘုရား၏နာမ
တော်ကို ဝန်ခံသောသူမည်သည်ကား၊ မတရား
သောအမှုကိုရှောင်ရမည်ဟူ၍၎င်း၊ တံဆိပ်ခတ်
လျက်ရှိသော ဘုရားသခင်၏တိုက်မြစ်သည်မြဲခိုင်ခံ့
၂၀ ၍တည်၏။- ကြီးစွာသောအိမ်၌ရွှေတန်ဆာ၊ငွေ
တန်ဆာသာရှိသည်မဟုတ်၊ သစ်သားတန်ဆာ၊
မြေတန်ဆာရှိ၏။အသရေရှိသောတန်ဆာ၊အသ
၂၁ ရေမရှိသောတန်ဆာရှိ၏။-သို့ဖြစ်၍၊အထက်ဆို
ခဲ့ပြီးသောအကျင့်တို့ကိုပယ်၍၊မိမိကိုစင်ကြယ်
စေသောသူမည်သည်ကား၊ အသရေရှိသောတန်
ဆာ၊ သန့်ရှင်း၍အိမ်ရှင်သုံးစရာကောင်းသော
တန်ဆာ၊ ကောင်းသောအမှုများအဖို့ အလို၄ါ
ပြင်ဆင်သောတန်ဆာဖြစ်လိမ့်မည်။
၂၂ လူပျိုတို့၏ တပ်မက်ခြင်း ကိုလေသော မိတ်ကို
ကြည့်ရှောင်လော့။ဖြောင့်မတ်ခြင်း၊သစ္စာရှိခြင်း၊
ချစ်ခြင်း၊ စင်ကြယ်သောမိတ်ရှိ၍၊ သခင်ဘုရား
ကိုပဌနာပြုသောသူတို့နှင့်အသင့်အတင့်နေခြင်း
၂၃ တို့ကိုမှီအောင်လိုက်သော့။-မိုက်မဲ၍ပညာကင်း
သောပုစ္ဆာအမေးတို့သည် ရန်ပွားစေတတ်သည်
၂၄ ဟုသိမှတ်၍ ပယ်ရှားလော့။- သခင်ဘုရား၏
ကျွန်သည်ရန်မတွေ့ရ။ ခပ်သိမ်းသောသူတို့အား
ဖြည်းညှင်းစွာပြုသောသူ၊ဆုံးမသြဝါဒပေးခြင်း
အမှု၌လိမ္မာသောသူ၊ သည်းခံနိုင်သောသူဖြစ်ရ
၂၅ မည်။- ဆီးတားငြင်းခုံသောသူတို့ကို နူးညံ့သိမ်
မွေ့စွာဆုံးမရမည်။ သစ္စာတရားကိုဝန်ခံခြင်းအ
လို၄ါ၊ နောင်တကိုဘုရားသခင်ပေးကောင်း ပေး
၂၆ တော်မူ၍၊- မာရ်နတ်၏ အလို အတိုင်း ဖမ်းမိ
သောထိုသူတို့သည်သတိရ၍၊ထိုဖမ်းမိရာမှလွတ်
ခြင်းသို့ရောက်ကောင်းရောက်ကြလိမ့်မည်။

၃

၁ နောင်ကာလသည် ခဲယဉ်းသောကာလ ဖြစ်
မည်ဟု သိမှတ် လော့။ အထယ် သို့နည်း ဟူမူ
၂ ကား၊- လူတို့သည် ကိုယ်ကိုကိုယ် ချစ်သောသူ၊
ငွေ ကို တပ် မက် သော သူ၊ ဝါကြွား သော သူ၊
ထောင်လွှား စော်ကား သောသူ၊ သူအသရေကို
ဖျက် ချ သော သူ၊ မိဘ စကား ကို နား မ ထောင်
သောသူ၊ကျေးဇူးမရှိသောသူ၊ သန့်ရှင်းခြင်းမရှိ
၃ သောသူ၊- ပကတိ ကြင်နာစုံမက်ခြင်းနှင့် ကင်း
သော သူ၊ ရန် ငြိုး ဖွဲ့ သော သူ၊ ချော စား တတ်
သောသူ၊ ကိုယ်ဇာမြေကို မချုပ်တည်းနိုင်သော
သူ၊ ကြမ်းတန်သောသူ၊ သူတော်ကောင်းကိုမုန်း
၄ သောသူ၊-သစ္စာကိုဖျက်တတ်သောသူ၊သတိပေး
ခြင်းကိုမခံသောသူ၊ မာန်မာနနှင့် ထောင်လွှားသော
သူ၊ ဘုရားသခင်ကို နှစ်သက်သည်ထက် ကာမ
ဂုဏ် ခံစား ခြင်းကို သာ ၍ နှစ် သက် သော သူ၊
၅ ဘုရား ဝတ်၌ မွေ့လျော် ရောင် ဆောင်၍၊- မွေ့
လျော်ခြင်း တန်ခိုးကို ငြင်း ပယ်သောသူ ဖြစ်ကြ
၆ လိမ့်မည်။ ထိုသူတို့ကိုရှောင်လော့။- ဒုစရိုက်အ
၇ ဖြစ်ဝန်ကို ထမ်းရွက်၍၊ အထူးထူး အပြားပြား
သော လော ဘ ကိလေ သာ သွေး ဆောင် ရာ သို့
လိုက်၍၊ အစဉ်သင်သော်လည်း၊ သစ္စာတရား
ကိုလေ့ကျက်ခြင်းသို့အလျှင်းမရောက်နိုင်သော
မိန်းမိုက်တို့ကို၊ အိမ်ထဲသို့ဝင်၍ဖမ်းသွားသော
၈ သူတို့သည်ထိုသူတို့အဝင်ဖြစ်ကြ၏။- ယန္နေနှင့်
ယံဗြေသည်မောရှေကိုဆီးတားသကဲ့သို့၊ ထိုသူ
တို့သည်သစ္စာတရားကိုဆီးတားကြ၏။ မိတ်နှလုံး
ယိုယွင်း၍ယုံကြည်ရောင်ဆောင်သောသူဖြစ်
၉ ကြ၏၊- ထိုသူနှစ်ယောက်တို့၏မိုက်မဲခြင်းသည်
လူအပေါင်းတို့ရှေ့မှာ ထင်ရှား သကဲ့သို့၊ ဤသူ
တို့၏ မိုက်မဲခြင်းသည်လည်းထင်ရှားလိမ့်မည်။
သို့ဖြစ်၍၊သူတို့သည် ထိုး၍ မလွန်မသွားရကြ။
၁၀ ငါဆုံးမသြဝါဒပေးခြင်း၊အကျင့်ကျင့်ခြင်း၊ကြံ
၁၁ စည်ခြင်း၊ သစ္စာစောင့်ခြင်း၊ မိတ်ရှည်ခြင်း၊ ချစ်
ခြင်း၊ သည်းခံခြင်း တို့ကို၎င်း၊ အန္တိအုတ်မြို့၊ ဣ
ကောနိမြို့၊လုတ္တရမြို့တို့၌ငါခံရသကဲ့သို့၊ အရပ်
ရပ်တို့၌ခံရသောညှဉ်းဆဲခြင်း၊ ဆင်းရဲခြင်းတို့

ကိုဒုင်၊ သင်သည် ရှာဖွေ နားလည် ရပြီ။ ထိုသို့
သောအမှုတို့ကိုငါတွေ့ရသော်လည်း၊ တွေ့သမျှ
တို့ မှ သခင် ဘုရား သည် ငါ့ကို ကယ် နှုတ် တော်
၁၂ မူပြီ။- ယေရှု ခရစ်၏ တရား တော် နှင့် အညီ၊
ဘုရားဝတ်၌မွေ့လျော်၍နေခြင်းငှါ အလိုရှိသော
သူအပေါင်းတို့သည် ညှဉ်းဆဲခြင်းကိုခံရကြလိမ့်
၁၃ မည်။- ဆိုးညစ်သောသူ၊ လှည့်ဖြား သောသူတို့
မူကား၊သူတပါးကိုဒုင်၊ ကိုယ်ကိုဒုင်လှည့်ဖြား၍
ဆိုးညစ်ခြင်း၌တရွေ့ရွေ့တိုးပွားကြလိမ့်မည်။
၁၄ သင်သည် အဘယ်သူထံ၌ နည်းခံခဲ့ပြီးသည်
၁၅ ကိုဒုင်၊ ယေရှု ခရစ်ကို ယုံကြည် ခြင်း အားဖြင့်
ကယ်တင်ခြင်း အလိုငှါ ပညာကို ပေးနိုင် သော
ဓမ္မကျမ်း စာကို ငယ် သော အရွယ် မှစ၍ လေ့
ကျက်သည်ကိုဒုင် သိမှတ်သည်နှင့်၊ အထက်က
သင်၍ နှစ်လုံးသွင်းမိသောအယူဝါဒ၌ တည်နေ
၁၆ လေ့၊- ထိုကျမ်းစာ ရှိသမျှ သည် ဘုရားသခင်
၁၇ မှုတ်သွင်းတော်မူသော အားဖြင့်ဖြစ်၍၊ ဘုရား
သခင်၏လူသည်စုံလင်သောသူ၊ ကောင်းသောအ
မှုအမျိုးမျိုးတို့ကိုပြုစုခြင်းအလိုငှါပြင်ဆင်သော
သူဖြစ်မည်အကြောင်း၊ ဩဝါဒပေးခြင်း၊အပြစ်
ကိုဖော်ပြခြင်း၊ ဖြောင့်မတ်စွာပြုပြင်ခြင်း၊တရား
ကိုသွန်သင်ခြင်းကျေးဇူးများကိုပြုတတ်၏။

၄

၁ ကိုယ်တော်တိုင်ပေါ်ထွန်း၍နိုင်ငံတော်ထင်ရှား
သောကာလ၊အသက်ရှင်သောသူ၊သေသောသူ
တို့ကို စစ်ကြော စီရင်တော်မူသော သခင် ယေရှု
ခရစ်ရှေ့မှာဒုင်၊ ဘုရားသခင်ရှေ့မှာဒုင်၊ငါသည်
၂ သင့်ကိုသစ္စာပေးသဉ်ကား၊-နှုတ်ကပတ်ဘုရား
တော်ကိုဟောပြောလော့။အချိန်ရှိသည်ဖြစ်စေ၊
မရှိသည် ဖြစ်စေ၊ ကြိုးစားအားထုတ်လော့။ အ
ပြစ်ကိုဖော်ပြလော့။ဆုံးမခြင်းကိုပြုလော့။အလွန်
ရှည်သော စိတ် နှင့် ဩဝါဒ မျိုးကို ပေး၍ တိုက်
၃ တွန်းသွေးဆောင်လော့။- အကြောင်းမူကား၊
နောင်ကာလ၌ လူတို့သည် စင်ကြယ်သောဩဝါ
ဒကို နားမခံနိုင်ဘဲ၊ ယားတတ်သော နားရှိလျှင်၊
မိမိတပ်မက်ခြင်းအတိုင်းများပြားသောဆရာတို့
၄ နောက်သို့ လိုက်ကြ လိမ့်မည်။- သမ္မာတရားကို
နားမထောင်ဘဲ၊ ဒဏ္ဍာရီစကားကိုနားထောင်၍
၅ လွဲသွားကြလိမ့်မည်။- သင်မူကား၊ အရာရာ၌
သမ္မာသတိ ရှိစေလော့။ ဆင်းရဲဒုက္ခကို သည်းခံ
လော့။ သာသနာပြုဆရာ ဆောင်ရွက်ရသောအ
မှုကိုဆောင်ရွက်လော့။ဓမ္မဆရာအရာ၌ခန့်ထား
၍ပြုရသောဝတ်များကို အကုန်အစင်ပြုလော့။-
၆ အကြောင်းမူကား၊ ငါ့ကို ယဇ်ပေါ်မှာ လောင်းရ
သောအချိန် ရှိပြီ။ စုတေ့ ရသောအချိန် ရောက်
၇ လေပြီ။-ကောင်းစွာသောတိုက်လှန်ခြင်းကိုငါပြု
ပြီ။ ပြေးရသောလမ်းကိုအဆုံးတိုင်အောင်ပြေး
ပြီ။ ယုံကြည်ခြင်း တရားကို စောင့် ရှောက်ပြီ။-
၈ ယခုမှစ၍ဓမ္မသရဖူသည်ငါ့အဖို့သိုထားလျက်ရှိ
၏။ထိုနေ့ရက်၌တရားသဖြင့်စီရင်သောသူတည်း
ဟူသောသခင်ဘုရားသည် ထိုသရဖူကိုငါ၌အပ်
ပေးတော်မူမည်။ ထိုမျှမက၊ ပေါ်ထွန်းတော်မူ
ခြင်းကို တောင့်တသော သူအပေါင်းတို့၌လည်း
အပ်ပေးတော်မူမည်။
၉ ငါ့ထံသို့ မြန်မြန်လာခြင်းငှါ ကြိုးစားလော့။-
၁၀ အကြောင်း မူကား၊ ဒေမ သည် ယခုဘဝကို နှစ်
သက်သောစိတ်ရှိသည်နှင့်ငါ့ကိုစွန့်ပြစ်၍၊သက်
သာလောနိတ်မြို့သို့သွားပြီ။ ကရက္ကေသည်ဂလာ
တိပြည်သို့ဒုင်၊ တိတုသည် ဒါလမာတိ ပြည်သို့
၁၁ ဒုင်သွားပြီ။- လုကာတယောက်တည်းသာ ငါ့ထံ
မှာရှိ၏။ မာကုကိုသင်နှင့်အတူ ခေါ်ခဲ့လော့။သူ
၁၂ သည်ဆရာအမှုကိုပြုရာမှာ ငါ့အကျိုးရှိ၏။- တု
၁၃ ခိတ် ကို လည်း ဧဖက်မြို့သို့ ငါ စေလွှတ်ပြီ။- တ
ရောမြို့တွင်ကာပုထံ၌ ငါထားခဲ့သောဝတ်လုံ
ကိုဒုင်၊ စာစောင် ကို ဒုင်၊ အထူးသဖြင့် သားရေ
စာကိုဒုင်၊ သင်သည်လာသောအခါယူခဲ့လော့။-
၁၄ ပန်းတိမ်သမားအာလေဇန္ဒြုသည်ငါ၌မကောင်း
သောအမှုအများကိုပြုလေပြီ။ ထိုသူကျင့်သော
အကျင့်တို့၏အကျိုးအပြစ်ကို သခင်ဘုရား ဆပ်
၁၅ ပေးတော်မူပါစေသော။- သူကို သတိ ပြုလော့။
၁၆ ငါတို့စကားကိုအလွန်ငြင်းလေပြီ။- ပဌမအမှုန်
၌ အပြစ် တင်ခွင့် ကို ဖြေ၍ ငါသည် အစီရင်ခံရ
သောအခါ၊ ငါ့ဘက်၌ အဘယ်သူမျှမနေ။ လူအ
၁၇ ပေါင်းတို့သည် ငါ့ကို စွန့်ပြစ်ကြ၏။- သူတို့၌ အ
ပြစ်တင်တော်မမူပါစေနှင့်။လူအပေါင်းတို့သည်
စွန့်ပြစ် ကြ သော် လည်း၊ ဒေသနာတော်ကို အ
ကုန် အစင် ဟောပြော၍၊ ခပ်သိမ်းသောလူမျိုး
တို့သည်ကြားသိစေခြင်းငှါ၊ သခင် ဘုရားသည်
ငါ့ဘက်၌နေ၍ ငါ့ကို ခွန်အားနှင့်ပြည့်စုံစေတော်
မူ သော ကြောင့်၊ ခြင်္သေ့ ခံတွင်း မှ ကယ် နှုတ်
၁၈ ခြင်းချမ်းသာကိုငါရ၏။-ထိုမျှမက၊သခင်ဘုရား
သည်မကောင်းသောအမှုရှိသမျှတို့မှငါ့ကိုကယ်
နှုတ်၍၊မိမိကောင်းကင်နိုင်ငံတော်သို့တိုင်အောင်
မစ နို့ဆောင် တော် မူလိမ့်မည်။ ထိုသခင် သည်

ထမ္ဘူသာ အဆက်ဆက် ဘုန်းကြီးတော် မူစေသ
တည်း။ အာမင်။
၁၉ ပြစ်ကိလ နှင့် အာကုလ မှစ၍ သြနေသိဖော်
၏ အိမ်သူအိမ်သားများကို နှုတ်ဆက် လော့။-
၂၀ ဧရတ္တုသည် ကောရိန္သုမြို့၌နေ၏၊ တရော ဖိမ်
၂၁ သည်နာ၍မိလက်မြို့၌ငါထားခဲ့၏။-ဆောင်းကာ
လ မရောက်မှီ ကြိုးစား၍ လာခဲ့ လော့။ ဥဗုလု၊
ပုဒေ၊ လိနု၊ ကလောဒိမှစ၍ညီအစ်ကိုအပေါင်း
၂၂ တို့သည်သင့်ကို နှုတ်ဆက်ကြ၏။-- သခင်ယေရှု
ခရစ်သည် သင်၏ဝိညာဉ်နှင့်အတူ ရှိတော်
မူပါစေသော။ သင်၌ ကျေးဇူးတော် ရှိစေသ
တည်း။ အာမင်။

တိမောသေသြဝါဒစာဒုတိယစောင်ပြီး၏။

---

# တိတုဩဝါဒစာ။
## TITUS

၁

၁ ငါသည် သင့်ကို မှာထားခဲ့နှင့်သည် အတိုင်း၊
၂ ထဦး၊ ရွေးကောက်တော်မူသော ဘုရားသခင်
၃ ရှု၍၊ ငါတို့ကိုကယ်တင်သောအရှင်ဘုရားသခင်
၏ပညတ်တော်အတိုင်း၊ ငါ၌အပ်ထားသော တ
ရားဟောခြင်းအခွင့်အားဖြင့် တော်လျော်သော
အချိန်၌၊ နှုတ်ကပတ်တရားတော်ကိုထင်ရှားစေ
တော်မူသော အရာနှင့်စပ်ဆိုင်သော ထာဝရအ
သက်ကိုမျှော်လင့်သည်ဖြစ်၍၊ ဘုရားဝတ်၌မွေ့
လျော်ခြင်းနှင့် ဆိုင်သော သမ္မာ တရားကို ဝန်ခံ
ခြင်းအလို့ငှါ၎င်း၊ဘုရားသခင်ရွေးကောက်တော်
မူသောသူတို့၏ယုံကြည်ခြင်းအလို့ငှါ၎င်း၊ဘုရား
သခင်၏ကျွန်တည်းဟူသောယေရှုခရစ်၏တမန်
၄ တော်ဖြစ်သော ငါပေါလုသည်၊- ဆက်ဆံသော
ယုံကြည်ခြင်းအားဖြင့် သားရင်းဖြစ်သော တိ
တုကိုကြား၊လိုက်ပါ၏။ ငါတို့ကို ကယ်တင်တော်
မူသောအရှင်သခင်ယေရှုခရစ်နှင့် ခမည်းတော်
ဘုရားသခင် အထံတော်က ကျေးဇူး၊ ကရုဏာ၊
ငြိမ်သက်ခြင်းရှိပါစေသော။
၅ ငါသည် သင့်ကို မှာထားခဲ့နှင့်သည် အတိုင်း၊
ကရေတေကျွန်း၌ မစုံလင်သမျှတို့ကို ပြင်ဆင်၍၊
မြို့ရွာများ၌ သင်းအုပ်တို့ကို ခန့်ထားစေခြင်းငှါ၊
၆ ထိုကျွန်း၌ သင့်ကို ငါထားခဲ့သတည်း။- အပြစ်
တင် ခွင့် နှင့် ကင်း လွတ် သော သူ၊ မယား တ
ယောက်တည်း ရှိသော သူ ဖြစ်လျှင်၎င်း၊ သူ၏
သားသမီးတို့သည်ကာမဂုဏ်၌ ထွန်ကျူးသည်ဟု
အပြစ်တင်ခြင်း၊ နားမထောင်ခြင်းနှင့် လွတ်၍ ယုံ
ကြည်လျှင်၎င်း၊ ထိုသို့သောသူကို ခန့်ထား အပ်
၇ ၏။- အုပ်ကြောင်းမူကား၊ သင်းအုပ်သည် ဘုရား
သခင် ၏ တလျှာ စိုး ကဲ့သို့၊ အပြစ် တင် ခွင့် နှင့်
ကင်းလွတ် သော သူဖြစ်ရမည်။ ကိုယ် အလိုသို့
လိုက်တတ်သောသူ၊ စိတ်တိုသောသူ၊ စပျစ်ရည်
နှင့်ပျော်မွေ့သောသူ၊သူတပါးကိုရိုက်ပုတ်သော
သူ၊မစင်ကြယ်သောစီးပွားကိုတပ်မက်သောသူ
၈ မဖြစ်ရဘဲ၊- ဧည့်သည်ဝတ်ကိုပြုတတ်သောသူ၊
သူတော်ကောင်း နှင့် အဆွေ ဖွဲ့သော သူ၊ ရှုမြဲ
ခေါင့်သောသူ၊ ဖြောင့် မတ် သော သူ၊ သန့် ရှင်း
သောသူ၊ ကာမဂုဏ်ကိုချုပ်တည်းသောသူ ဖြစ်
၉ ရမည်။- စင်ကြယ်သောဩဝါဒအားဖြင့် ဆုံးမ
တွန်းသွေးဆောင်ခြင်းငှါ၎င်း၊ ငြင်းခုံသောသူတို့
၏ စကားကို ချေခြင်းငှါ၎င်း တတ်နိုင်မည် အ
ကြောင်း၊ ကိုယ်တိုင် သင်ပြီးသော သစ္စာစကား
တော်ကိုအမြဲစွဲလမ်းသောသူဖြစ်ရမည်။
၁၀ အကြောင်းမူကား၊နားမထောင်ဘဲအချည်းနှီး
သောစကားကိုပြော၍၊လှည့်ဖြားတတ်သောသူ
အများရှိကြ၏။ အရေဖျားလှီးခြင်းကိုခံသောသူ
၁၁ တို့တွင်ထည်း အထူးသဖြင့်ရှိကြ၏။- ထိုသူတို့၏
နှုတ်ကိုပိတ်ရမည်။သူတို့သည်မစင်ကြယ်သော
စီးပွားကိုတပ်မက်လျက်၊ မပေးအပ်သောဩဝါ
ဒကိုပေး၍၊ တအိမ်လောင်းလုံးကို ဖျောက်ဖျက်

၁၁ တတ်ကြ၏။- သူတို့အပါအဝင်၊အမျိုးသားချင်း
ပရောဖက်ဆရာတယောက်က၊ ကရက်သားမြဲ၊
မုသာ စွဲထမ်း၊၊ သားရဲ ကြမ်းကြုတ်၊ စားကျူး
၁၂ တုတ်တုတ်၊လူယုတ်ပေဟုစပ်ဆိုသတည်း။- ဤ
၁၃ သက်သေမှန်၏။ထိုကြောင့်၊သူတို့သည်ယုဒဒဏ္ဍာ
ရီစကားကိုငှင်၊သမ္မာတရားကိုစွန့်သောလူတို့၏
ပညတ်တို့ကိုငှင် အမှုမထားဘဲ၊ ယုံကြည် ခြင်း
အမှု၌စင်ကြယ်စေခြင်းငှါ၊ သူတို့ကိုကြပ်တည်း
၁၄ စွာဆုမ္ဗပြစ်တင်လော့။- စင်ကြယ် သော သူတို့
အား ခပ်သိမ်းသော အရာ တို့သည် စင် ကြယ်
လျက်ရှိကြ၏။ မစင်ကြယ်၊ မယုံကြည်သော သူ
တို့အားအဘယ်အရာမျှမစင်ကြယ်။ သူတို့၏နှစ်
ထုံးသည်းမစင်ကြယ်။ ကိုယ်ကို ကိုယ် သိသော
၁၆ မိတ်လည်းမစင်ကြယ်။-သူတို့သည်ဘုရားသခင်
ကို သိရောင်ဆောင် သော်လည်း၊ အကျင့် အား
ဖြင့် ဘုရားသခင်ကို ငြင်းပယ်ကြ၏။ စက်ဆုပ် ရွံ
ရှာ ဖွယ်သောသူ၊နားမထောင်သောသူ၊ကောင်း
သော အမှုတခု ကိုမျှ ပြုတတ်သော ဉာဏ် မရှိ
သောသူဖြစ်ကြ၏။

## ၂

၁ သင်မူကား၊ စင်ကြယ်သောဩဝါဒနှင့်ထိုက်
၂ တန်သမျှတို့ကိုဟောပြောလော့။- အသက်ကြီး
ရင့်သောယောကျ်ားတို့သည်သမ္မာသတိရှိသော
သူ၊ တည်ကြည်သောသူ၊ ဆင်ခြင်ခြောင့်သောသူ၊
ယုံကြည်ခြင်း၊ချစ်ခြင်း၊ သည်းခံခြင်း၌ မိတ်သန်
၃ သောသူဖြစ်ရကြမည်အကြောင်း၊- ထိုနည်းတူ၊
အသက်ကြီးရင့်သော မိန်းမတို့သည် ကျင့်ကြံ ပြုမူ
ရာမှာဝတ္တအမှုနှင့်ထိုက်တန်သောသူ၊ မချောစား
ထတ်သော သူ၊ စပျစ် ရည် ၌ မ ထွန်ကျူး တတ်
သောသူ၊ကောင်းသောအတတ်ကိုသင်ပေးတတ်
၄ သောသူ ကိုယ်တိုင်ဖြစ်၍၊- ဘုရားသခင်၏ နှုတ်
ကပတ်တရားတော်ကို ကဲ့ရဲ့ ခြင်းနှင့်ကင်းလွတ်
မိမည်သောငှါ၊ အသက်ပျိုသောမိန်းမတို့သည် ကိုယ်
ခင်ပွန်း ကို ချစ်သော သူ၊ သားသမီး ကို ချစ် သော
၅ သူ၊- ဆင်ခြင်ခြောင့်သောသူ၊ စင်ကြယ်သော သူ၊
အိမ်အိမ်ကို ပြုစုသော သူ၊ ကောင်းမွန်သော သူ၊
ခင်ပွန်း၏ အုပ်စိုးခြင်းကို ဝန်ခံ သော သူဖြစ်စေ
ခြင်းငှါ၊ အသက် ကြီး ရင့် သော မိန်းမ တို့ သည်
၆ ဆုံးမပေးရ ကြမည် အကြောင်း၊- ထို နည်း တူ၊
အသက် ပျိုသော ယောကျ်ား တို့ သည်လည်း၊
ဆင်ခြင် ခြောင့်ရ ကြမည် အကြောင်း၊ တိုက် တွန်း
သွေးဆောင်လော့။

၇ အရာရာ၌ ကောင်း သောအကျင့်တို့၏ ပုံသက်
သေကို ကိုယ် တိုင် ပြ လော့။ ဆုမ္မ ဩဝါဒ ပေး
သောအခါ၊ မိစ္ဆာဒိဋ္ဌိနှင့်ကင်းခြင်း၊ တည်ကြည်
၈ ခြင်း၊- အပြစ်တင် ဘွယ် မရှိ၊ စင် ကြယ် သော
တရားစကားကို ဟောပြောခြင်းတို့ကို ပြုလော့။
သို့ဖြစ်၍၊တဘက်၌နေသောသူသည်၊ငါတို့ကိုကဲ့
ရဲ့စရာအခွင့်မရနိုင်သောကြောင့်၊ရှက်ကြောက်
ခြင်းသို့ရောက်လိမ့်မည်။
၉ အစေခံကျွန်တို့သည်၊ငါတို့ကိုကယ်တင်တော်
မူသောအရှင် ဘုရားသခင်၏ဩဝါဒကို အရာရာ
၌ တန်ဆာဆင်ခြင်းငှါ၊ မိမိတို့ သခင်၏ အုပ်စိုး
ခြင်းကို ဝန်ခံ၍၊ ငြင်းခုံခြင်း မရှိဘဲ၊ အရာရာ ၌
သခင်၏ အလို သို့ လိုက် မည် အ ကြောင်း နှင့်၊-
၁၀ တိတ် ဆိတ် စွာ ခိုးယူခြင်းကို မပြုဘဲ၊ ခပ်သိမ်း
သော သစ္စာကို ထင်ရှားစွာ ပြမည်အကြောင်း
တိုက်တွန်းသွေးဆောင်လော့။
၁၁ အကြောင်းမူကား၊ မင်္ဂလာရှိသော မျှော်လင့်
၁၂ ရာကိုငှင်၊ကြီး၊မြတ်သောဘုရားသခင်တည်းဟူ
၁၃ သော၊ ငါတို့ကို ကယ် တင်တော် မူသော အရှင်
သခင်ယေရှုခရစ်၏ဘုန်းအသရေတော်ထင်ရှား
ပေါ်ထွန်း ခြင်း ကို ငှင်၊ ငါ တို့ သည် မျှော် ထင့်
လျက်၊ ဘုရားမဲ့ တရားမဲ့ နေခြင်း၊၊ လောကီတပ်
မက်ခြင်းကို ပယ်ရှား လျက်၊ ယ ခုအ ဝ၌ ဆင်ခြင်
ခြောင့်ခြင်း၊တရားသဖြင့်ကျင့်ခြင်း၊ဘုရားဝတ်၌
မွေ့လျော်ခြင်းတို့ကို ပြုနေရမည်အကြောင်း၊ ငါ
တို့ကို ဆုမ္မသွန်သင်၍၊ လူအပေါင်းတို့ကို ကယ်
တင် တတ်သော ဘုရား သခင်၏ ကျေးဇူး တော်
၁၄ သည် ထင်ရှား ပေါ်ထွန်းလျက်ရှိ၏။- ထိုသခင်
ယေရှုခရစ်သည် ခပ်သိမ်းသောဒုစရိုက်မှငါတို့
ကို ရွေးနုတ်ခြင်း ငှါငှင်၊ ကောင်းသော အကျင့်
ဘက်၌ စိတ်အားကြီး၍၊ ပိုင်ထိုက်တော်မူသော
အမျိုးကိုမိမိအဖို့စင်ကြယ်စေခြင်းငှါငှင်၊ ကိုယ်
၁၅ ကိုကိုယ်စွန့်ကြဲတော်မူပြီ။- ဤတရားစကားကို
ဟောပြောခြင်း၊ တိုက်တွန်း သွေးဆောင် ခြင်း၊
ဆုမ္မပြစ်တင်ခြင်းတို့ကို ခပ်သိမ်းသောအာဏာ
နှင့်တကွ ပြုလော့။ အဘယ်သူမျှ သင့်ကို မထီမဲ့
မြင်မပြုစေနှင့်။

## ၃

၁ လူတို့သည်အထွဋ်အမြတ်အာဏာစက်၏အုပ်
စိုးခြင်းကို ဝန်ခံစေခြင်းငှါငှင်၊ မင်း၏စကားကို
နားထောင်စေခြင်းငှါငှင်၊ ကောင်းသော အမှုအ
၂ မျိုးမျိုးတို့ကိုပြု၍အသင့်ဖြစ်စေခြင်းငှါငှင်၊- အ

ဘယ်သူကိုမျှမကဲ့ရဲ့၊ရန်တွေ့ခြင်းကိုမပြု၊ ဖြည်း
ညှင်းသော သဘောရှိ၍၊ ခပ်သိမ်းသောသူတို့၌
အလွန်နူးညံ့ သိမ်မွေ့စွာပြုစေခြင်းငှါရင် သတိ
၃ ပေးလော့။-အကြောင်းမူကား၊အထက်ကငါတို့
သည်ပညာမဲ့သောသူ၊နားမထောင်သောသူ၊မှား
ယွင်းသောသူ၊ အထူးထူးအပြားပြားသောတပ်
မက်ခြင်း၊ကာမဂုဏ်ခံစားခြင်းအမှုတို့ကိုဆောင်
ရွက်သောသူ၊မနာလိုခြင်း၊ငြူစူခြင်း၌ကျင်လည်
သောသူ၊ စက်ဆုပ် ရွံရှာဖွယ်သော သူ၊ အချင်း
၄ ချင်းမုန်းသောသူဖြစ်ကြ၏။- ငါတို့ကိုကယ်တင်
တော်မူသောအရှင်ဘုရားသခင်၏စေတနာတော်
နှင့်လူတို့ကို ချစ်တော်မူသောမေတ္တာတော်သည်
၅ ပေါ်ထွန်းသော အခါ၊- ငါတို့ကျင့်သော ဖြောင့်
မတ်ခြင်းအကျင့်အားဖြင့် မဟုတ်ဘဲ၊ မိမိသနား
ခြင်း ကရုဏာ တော်နှင့်အညီ ဒုတိယ မွေးခြင်း
နှင့်ဆိုင်သောဆေးကြောခြင်းအားဖြင့်၎င်း၊သန့်
ရှင်းသောဝိညာဉ်တော်၏ အသစ်ပြုပြင်ခြင်းအား
၆ ဖြင့်၎င်း၊ ငါတို့ကိုကယ်တင်တော်မူ၏။- ငါတို့ကို
ကယ်တင်သောအရှင် ယေရှုခရစ် အားဖြင့် ငါ
တို့အပေါ်သို့ထိုဝိညာဉ်တော်ကိုကြွယ်ဝစွာသွန်း
၇ လောင်းတော်မူ၏။- အကြောင်းမူကား၊ ငါတို့
သည် ဘုရား သခင် ၏ ကျေး ဇူး တော် အား ဖြင့်
ဖြောင့်မတ် ရာသို့ ရောက်၍ ထာဝရ အသက် ကို
မျှော် လင့် သည် နှင့် အညီ အမွေ ခံ ဖြစ် ကြမည်
အကြောင်းတည်း။
၈ ဤစကားသည်သစ္စာစကားဖြစ်၏။ဘုရားသခင်
ကိုယုံကြည် သော သူ တို့သည် ကောင်းသောအ
ကျင့် တို့ကို အမြဲကျင့် အံ့သောငှါ သတိ ပြု ရကြ
မည်အကြောင်း၊ သင် သည်ဤအရာများကိုကြိုး
စား၍ ဟောပြောစေခြင်းငှါ ငါအလိုရှိ၏။ ထိုအ
ကျင့်တို့သည်ကောင်းသည်သာမက၊ လူတို့၏အ
၉ ကျိုးကိုပြုစုတတ်သောအကျင့်ဖြစ်ကြ၏။-မိုက်
မဲသောပုစ္ဆာအမေးတို့ကို၎င်း၊ဆွေစဉ်မျိုးဆက်
စာရင်းတို့ကို၎င်း၊ ပညတ်တရားကြောင့် ရန်တွေ့
ခြင်း၊ တိုက်လှန်ခြင်း တို့ကို၎င်း ရှောင်လော့။ အ
ကြောင်းမူကား၊ ထိုအရာတို့သည် အကျိုးမရှိ၊
၁၀ အချည်းနှီးသက်သက်ဖြစ်ကြ၏။- သင်းခွဲသော
သူကိုနှစ်ကြိမ်ခြောက်အောင်ဆုံးမပြီးမှပယ်ရှား
၁၁ နှင်ထုတ်လော့။- ထိုသို့သောသူသည် ကိုယ်အ
ပြစ်ကိုသိလျက်ပင် အပြစ်ပြု၍ မှောက်လှန်သော
စိတ်ရှိသောသူဖြစ်သတည်း။
၁၂ အာတေမသော်၎င်း၊တုခိတ်သော်၎င်း၊သင့်ဆီသို့
ငါစေလွှတ်သောအခါနိကောပလိမြို့ထိုင်အောင်
ထေံသို့လာခြင်းငှါ ကြိုးစားလော့။ ဆောင်းကာ
၁၃ လပတ်လုံးထိုမြို့၌ငါနေမည်ဟုအကြံရှိ၏။ ကျမ်း
ဆရာဇေနနှင့်အာပေါလု၌အဘယ်အရာမျှမလို
၁၄ စေခြင်းငှါကြိုးစား၍ ထမ်းပို့လော့။- ငါတို့၏
လူများသည်လည်းအသီးမဲ့သောသူမဖြစ်၊ကိုယ်
သုံးစရာအို ရှိရမည်အကြောင်း၊ ကောင်း သော
အကျင့်တို့ကိုအမြဲကျင့်အံ့သောငှါ သင်ကြစေ။-
၁၅ ထေံမှာရှိသောသူအပေါင်းတို့သည်သင့်ကိုနှုတ်
ဆက်ကြ၏။ ယုံကြည်ခြင်းနှင့်တကွ ငါတို့ကိုချစ်
သော သူများ ကို နှုတ် ဆက် လော့။ သင် တို့ အ
ပေါင်း၌ကျေးဇူးတော်ရှိစေသတည်း။ အာမင်။

တိတုဩဝါဒစာပြီး၏။

---

# ဖိလေမုန်ဩဝါဒစာ။

## PHILEMON.

၁ ယေရှုခရစ်နှင့်စပ်ဆိုင်သောအားဖြင့်အကျဉ်း
ခံရသောငါပေါလုနှင့် ညီတိမောသေသည်၊ ငါ
တို့ချစ်သောလုပ်ဖော်ဆောင်ဖက်ချင်းဖိလေမုန်၊-
၂ ငါတို့ချစ်သောနှစ်မအပ္ပိ၊ ငါတို့စစ်သူရဲချင်းအာ
ခိပ္ပုမှစ၍သင်၏အိမ်၌ ရှိသောအသင်းတော်ကို
၃ ကြားလိုက်ပါ၏။- ငါတို့သခင်ယေရှုခရစ်နှင့်ငါ
တို့အဖ တည်းဟူသော ဘုရားသခင်အထံတော်
ကကျေးဇူးတော်နှင့်ငြိမ်သက်ခြင်းသည်သင်တို့
၌ရှိပါစေသော။
၄ သင် သည် သခင် ယေရှုခရစ် ကို ယုံကြည် ၍
၅ သန့်ရှင်းသူအပေါင်းတို့ကိုချစ်သည်ထုငါသည်
ကြားလျှင်၊ ငါ၏ဘုရားသခင် ကျေးဇူးတော်ကို

အစည်းရိုးနွမ်း၍၊ သင့်အဖို့အလို့ငှါ ဆုတောင်း
၆ ပဌနာ ပြုလျက်နေ၏။- ဆုတောင်း သော အချက်
ဟူမူကား၊ သင်သည်ယုံကြည်ခြင်းကို ဆက်ဆံ
သောအရှိန်ကြီး၍၊ သူတပါးတို့သည်ယေရှုခရစ်
အဖို့အလို့ငှါငါတို့၌ ကောင်းသော အရာရှိသမျှ
တို့ကိုဝန်ခံမည်အကြောင်း ဆုတောင်းပဌနာပြု
၇ ၏။-အချင်းညီ၊သင်သည်သန့်ရှင်းသူတို့၏စိတ်
နှလုံးကို သက်သာ စေ သော့ကြောင့်၊ သင် ၏
မေတ္တာကို ထောက်၍ ငါတို့သည် အလွန် ဝမ်း
မြောက်ချမ်းသာခြင်းရှိ၏။
၈ ထိုကြောင့်၊ သင်သည်ပြုသင့်သောအမှုအရာ
ကိုပညတ်ထားခြင်းငှါ၊ငါသည်ခရစ်တော်အား
၉ ဖြင့်အလွန်ရဲရင့်စရာအခွင့်ရှိသော်လည်း၊- အ
သက်ကြီးသော ပေါလုတည်းဟူသော၊ ယေရှု
ခရစ်ကြောင့်အကျဉ်းခံရသောသူဖြစ်လျက်ပင်၊
မေတ္တာအားဖြင့်သာ သင့်ကို တောင်းပန်ပါ၏။-
၁၀ ချည်နှောင်ခြင်းကိုခံစဉ်တွင်ငါဖြစ်ပွားစေသော
၁၁ သားတည်းဟူသော၊- သင်သည်အထက်ကအ
သုံးမရသောသူ၊ယခုတွင်ငါနှင့်သင်သည်အသုံး
ရသောသူ ဩနေသိမ် အဖို့ ငါတောင်းပန်ပါ၏။-
၁၂ ထိုသူကိုသင့်ထံသို့ ငါပြန်စေသည်ဖြစ်၍၊ သူ့ကို
၁၃ ငါ့ရင်ခွေးကဲ့သို့ မှတ်လျက် ထက်ခံလော့။- ဧဝံ
ဂေလိတရားကြောင့်ချည်နှောင်ခြင်းကို ငါခံစဉ်
တွင်၊ သူသည်သင်၏ကိုယ်စားငါ့ကိုပြုစုစေမည်
၁၄ အကြောင်း၊သူ့ကိုငါထားချင်သော်လည်း၊-သင်
သည်ငါ၌ကျေးဇူးပြုရာတွင် အနိုင်ပြုရသကဲ့သို့
မဟုတ်၊ အလိုအလျောက်ပြုစေချင်သော စိတ်ရှိ
သည်ဖြစ်၍၊ သင်၏အခွင့်မရှိလျှင် အလျှင်းမပြု
၁၅ လို။- ထိုမှတပါး၊ သင်သည် သူ့ကို အစဉ်ရစေ
ခြင်းငှါ၊သူသည်သင်နှင့်ခဏကွာသွားသည်ဟု
၁၆ ဆိုစရာရှိ၏။- ထိုသို့ဆိုသော်၊အစေခံကျွန်ကဲ့သို့
ရမည်ဟုမဆိုလို။ငါ၌အထူးသဖြင့်ချစ်သောညီ၊
သင်၌ကား၊ ဇာတိ အားဖြင့် ၎င်း၊ သခင် ဘုရား
အားဖြင့်၎င်း၊ သာ၍ချစ်သောညီကဲ့သို့ ရမည်ဟု
၁၇ ဆိုလိုသတည်း။- သို့ဖြစ်၍၊ သင်သည် ငါ့ကိုအ
ပေါင်းအဖော်ကဲ့သို့မှတ်လျှင်၊ သူ့ကို ငါကဲ့သို့ပင်
၁၈ ထက်ခံလော့။-သူသည်သင်၌ပြစ်မှားခြင်း၊ကြွေး
တင်ခြင်းတစုံတခုရှိလျှင်၊ ငါ့အတွက်အတာမှတ်
၁၉ လော့။- ဆပ်ပေးမည်ဟု၊ ငါပေါလုသည် ကိုယ်
လက်နှင့် ရေးထား၏။ သို့ရာတွင်၊ သင်၏ ကိုယ်
တည်းဟူ သောကြွေးကို ပင် ငါ့အား ဆပ်ပေးရ
၂၀ သော အကြောင်းရှိသည်ဟုငါမဆို။- အချင်းငါ့
ညီ၊သခင်ဘုရား၌ငါ့ကိုကျေးဇူးပြုပါလော့။ ခရစ်
တော်၌ငါ့စိတ်နှလုံးကိုသက်သာစေပါလော့။-
၂၁ သင်သည်နားထောင်မည်ဟုယုံမှားခြင်းမရှိသည်
သာမက၊ငါပြောသည်ထက်သာ၍ပြုမည်ဟုအ
မှန်သိလျက်ငါရေးလိုက်ပါ၏။
၂၂ ထိုမှတပါး၊ ငါတည်းခိုစရာ အရပ်ကို ထည်း
ပြင်လော့။ အကြောင်းမူကား၊ သင်တို့သည် ဆု
တောင်းပဌနာ ပြုသောအားဖြင့် သင်တို့ရှိရာသို့
ငါရောက်ရသော အခွင့်ကို ပေး တော်မူမည်ဟု
၂၃ မျှော်လင့်ခြင်းရှိ၏။- ယေရှုခရစ်ကြောင့် ငါနှင့်
၂၄ အတူ အကျဉ်း ခံရသော ဧပဖြ မှစ၍၊- ငါ၏
လုပ်ဖော်ဆောင်ဖက်မာကု၊ အာရိတ္တာခု၊ ဒေမ၊
၂၅ လုကာ တို့သည် သင့်ကိုနှုတ်ဆက် ကြ၏။- ငါ
တို့သခင် ယေရှု ခရစ် ၏ ကျေးဇူး တော်သည်
သင်တို့၏စိတ်ဝိညာဉ်နှင့်အတူရှိပါစေသတည်း။
အာမင်။

ဖိလေမုန်ဩဝါဒစာပြီး၏။

# ဟေဗြဲဩဝါဒစာ။

## EPISTLE TO THE HEBREWS.

၁

၁ ရှေး လွန်လေပြီးသော အခါ ပရောဖက် များ
အားဖြင့် ဘိုးဘေးတို့အား အထပ်ထပ်အနည်း
နည်းဗျာဒိတ်ပေးတော်မူသောဘုရားသခင်သည်၊
ဤနောက်ဆုံးကာလအခါမိမိသားတော်အားဖြင့်
၂ ငါတို့အားဗျာဒိတ်ပေးတော်မူပြီ။-ထိုသားတော်
ကို အလုံးစုံတို့၏အမွေခံ သခင်အရာ၌ ခန့်ထား
တော်မူ၏၊ သားတော်အားဖြင့် လည်း လောက
၃ ဓာတ်တို့ကိုတည်တော်မူ၏။- ထိုသားတော်သည်
ဘုရားသခင်၏ ဘုန်းတော်ရောင်ခြည်နှင့် ဇာတိ
အဖြစ်တော်၏ပုံသဏ္ဍာန်ဖြစ်၍၊တန်ခိုးနှင့်ပြည့်
စုံသောမိမိအမိန့်တော်အားဖြင့် ခပ်သိမ်းသော
အရာတို့ကို မစတော်မူသောသူဖြစ်လျက်၊ ငါတို့
အပြစ်များကို ကိုယ်တော်တိုင် အားဖြင့် သုတ်
သင်ပယ်ရှင်းပြီးလျှင်၊မြင့်သောအရပ်မှာတန်ခိုး
အာနုဘော်တော်၏ လက်ျာတက်၌ ထိုင်တော်မူ
၄ ၏။- ကောင်းကင်တမန်တို့ ရသောဘွဲ့နာမထက်
ထူးမြတ်သောဘွဲ့နာမ တော်ကို ခံရသည်နှင့် အ
ညီ၊ ကောင်းကင်တမန်တို့ထက် ကြီးမြတ်သော
၅ သူဖြစ်တော်မူ၏။-အကြောင်းမူကား၊သင်သည်
ငါ့သားဖြစ်၏၊ ယနေ့ငါသင့်ကို ငါဖြစ်ပွားစေပြီ
ဟူ၍၎င်း၊ ငါသည် သူ၏ အဘဖြစ်မည်၊ သူသည်
လည်းငါ၏သားဖြစ်လိမ့်မည်ဟူ၍၎င်း အဘယ်
မည် သော ကောင်းကင် တမန် ကို တခါ မျှ မိန့်
တော်မူသနည်း။
၆ တနည်းကား၊သားဦးကို ဤလောကသို့သွင်း
တော်မူသောအခါ၊ ဘုရားသခင်၏ ကောင်းကင်
တမန် အ ပေါင်း တို့သည် ထိုသူကို ပြပ်ဝပ်ကိုး
၇ ကွယ်ကြစေဟုထားသတည်း။-တနည်းကား၊မိမိ
တမန်တို့ကိုလေကဲ့သို့၎င်း၊မိမိအစေအပါတို့ကိုမီး
လျှံကဲ့သို့၎င်းဖြစ်စေတော်မူထသောဟု၊ ကောင်း
၈ ကင်တမန်တို့ကိုရည်စောင်း၍ဆိုသတည်း။-သား
တော်ကိုကား၊ အိုဘုရားသခင်၊ ကိုယ် တော် ၏
ပလ္လင်သည် နိစ္စထာဝရ ပလ္လင်ဖြစ်ပါ၏၊ ကိုယ်
တော်၏ နိုင်ငံသည်တရားသဖြင့် စီရင်သောနိုင်ငံ
၉ ဖြစ်ပါ၏။- ကိုယ် တော် သည် ဖြောင့်မတ်ခြင်း
တရားကိုနှစ်သက်၍၊ မတရားသောအမှုကိုမုန်း
တော်မူ၏၊ ထို ကြောင့်၊ အိုဘုရားသခင်၊ ကိုယ်
တော်၏ဘုရားသခင်သည်ကိုယ်တော်၏အပေါင်း
အဖော်တို့ ထက် ကိုယ် တော်ကို မြှောက် ၍၊
ဝမ်းမြောက်ခြင်းဆီနှင့် ဘိသိက်ပေးတော်မူပြီ
ဟုလာသတည်း။
၁၀ တဖန် ကျမ်းစာ လာ သည် ကား၊ အိုထာဝရ
ဘုရား၊ ကိုယ်တော်သည်ရှေးဦးစွာ၌ မြေကြီးကို
တည်တော်မူပြီ။မိုဃ်းကောင်းကင်သည်လည်း
လက် တော်နှင့် ဖန်ဆင်း သော အရာ ဖြစ်ပါ၏။-
၁၁ ထို အရာတို့သည် ပျက်စီးခြင်းသို့ ရောက် သော်
လည်း၊ ကိုယ်တော်သည် အမြဲတည် တော်မူ၏၊
ထိုအရာ ရှိသမျှတို့သည် အဝတ်ကဲ့သို့ ဟောင်း
နွမ်းခြင်းသို့ရောက်၍၊ကိုယ်တော်သည်ဝတ်လုံ
ကို လိပ်သကဲ့သို့ လိပ်တော်မူသဖြင့် ပြောင်းလဲ
၁၂ ခြင်း ရှိကြ သော် လည်း၊- ကိုယ် တော် သည်
ပြောင်းလဲတော်မမူပါ၊ အသက်တော်လည်း မ
၁၃ ကုန်မဆုံးရပါဟု လာ သတည်း။- ထိုမှတပါး၊
သင်၏ရန်သူတို့ကိုသင်၏ခြေတင်ရာငါမချမထား
မှီတိုင်အောင် ငါ၏လက်ျာတက်၌ထိုင်နေလော့ဟု၊
အဘယ်မည်သော ကောင်းကင်တမန်ကို တခါ
၁၄ မျှမိန့်တော်မူဘူးသနည်း။- ကောင်းကင်တမန်
များတို့ကား၊ ကယ်တင်တော်မူခြင်းကျေးဇူးကို
အမွေခံလတံ့ သော သူတို့ကို ပြုစုစေခြင်းငှါ၊ စေ
လွှတ်တော်မူသောအစေခံနာမ်ဥာဉ်ဖြစ်ကြသည်
မဟုတ်လော။

၂

၁ ထိုကြောင့်၊ ငါတို့သည်ကြားရသောဒေသနာ
တော်ကို မမေ့မလျော့မည် အကြောင်း၊ စိတ်နှစ်
လုံး၌ သာ၍ မှတ်မိ စွဲလမ်းခြင်း ရှိရကြမည်။-
၂ ကောင်းကင် တမန်များ အား ဖြင့် ထားတော်မူ
သော ဗျာဒိတ်တော်သည်တည်၍ ပြစ်မှား ဖွန်
ကျူးခြင်း အမှုအမျိုးမျိုး တို့သည် ခံထိုက်သော
၃ အပြစ်ဒဏ်ကို ခံရသည်မှန်လျှင်၊- အစ အဦး၌
သခင်ဘုရား ဟော တော် မူ၍ ဒေသနာ စကား
တော်ကို ကြားရသော သူတို့သည်၊ ထိုသောတ်

သော သက်သေ အားဖြင့် ငါတို့အား ဆင့်ဆို၍
ထောပြောသော၊ ဤမျှလောက် ကြီးစွာ သော
ကယ်တင်တော်မူခြင်းတရားကို ငါတို့သည် နား
မထောင်ဘဲနေလျှင်၊ အပြစ်ဒဏ်နှင့်အဘယ်သို့
၄ လွတ်ကြလိမ့်မည်နည်း။– ထိုသက်သေ ခံသော
သူတို့နှင့် အတူ ဘုရားသခင် သည် နိမိတ် လက္ခ
ဏာ၊ အံ့ဩဖွယ်သောအမှုအားဖြင့်၎င်း၊ ထူးဆန်း
သောတန်ခိုးအထူးထူးအပြားပြားအားဖြင့်၎င်း၊
သန့်ရှင်းသောဝိညာဉ်တော်သည်မိမိအလိုတော်
အတိုင်းဝေငှသောဆုကျေးဇူးအားဖြင့်၎င်းသက်
သေခံတော်မူပြီ။
၅ ငါတို့ ပြောဆိုသော နောင်ကပ် ကမ္ဘာကိုအုပ်
စိုးရသော အခွင့်ကို ကောင်းကင် တမန်တို့၌အပ်
၆ ပေးတော်မူသည်မဟုတ်။–ကျမ်းစာတချက်၌တ
ယောက်သောသူက၊ လူသည်အဘယ်သို့သော
သူဖြစ်၍ ကိုယ်တော်သည် အောင်းမေ့တော်မူရ
သနည်း။ လူသားသည် အဘယ်သို့သောသူဖြစ်
၇ ၍အကြည့်အရှုကြွလာတော်မူရသနည်း။– သူ
ကိုကောင်းကင်တမန်တို့ အောက်၌ အနည်းငယ်
နှိမ့်တော်မူပြီ။ သူ၏ခေါင်းကို ဘုန်းအသရေနှင့်
ပတ်ရစ်တော်မူပြီ။ ဖန်ဆင်းတော်မူသော အရာ
၈ ရှာကို အုပ်စိုးစေ၍၊– ခပ်သိမ်းသော အရာ တို့
ကိုသူ၏ ခြေအောက်၌ချထားတော်မူပြီဟုသက်
သေ ခံ သတည်း။ ခပ်သိမ်းသော အရာတို့ကို ချ
ထားတော်မူ၏ ဟု ဆိုသော်၊ မချ မထားဘဲ ကျန်
ရစ်သောအရာတစုံတခုမျှမရှိရ။ ယခုမူကား၊ ခပ်
သိမ်းသော အရာတို့သည် ချထားလျက် ရှိသည်
၉ ကိုငါတို့ မမြင်ရ ကြသေး။– ယေရှုသည်ဘုရား
သခင်၏ ကျေးဇူးတော်အားဖြင့် လူအပေါင်းတို့
အတွက်ကြောင့်အသေခံရသောအခွင့်ရှိစေခြင်း
ငှါ၊ ကောင်းကင်တမန်တို့အောက်၌အနည်းငယ်
နှိမ့်ပြီးမှ၊ အသေခံရသောကြောင့်ခေါင်းတော်၌
ဘုန်းအသရေပတ်ရစ်လျက်ရှိသည်ကို ငါတို့မြင်
၁၀ ကြ၏။–အကြောင်းမူကား၊ များစွာသောသားတို့
ကိုကယ်တင်၍၊ ဘုန်း စည်းစိမ် စံစား ရာ သို့ ပို့
ဆောင်သောအရှင်သည်၊ ဒုက္ခဝေဒနာအားဖြင့်
စုံထင် ခြင်း သို့ ရောက် ရ မည် အကြောင်း၊ ခပ်
သိမ်းသောအရာတို့ကို ဖန်ဆင်း၍ အုပ်စိုးတော်
မူသောဘုရားသည် စီရင်တော်မူအပ်၏။
၁၁ သန့်ရှင်းစေတတ်သောသူနှင့် သန့်ရှင်းစေအပ်
သောသူများတို့ သည်တပါးတည်းသောပကတိ
ရှိကြ၏။ ထိုကြောင့်၊ သန့်ရှင်းစေတတ်သောသူ
သည်သန့်ရှင်းစေအပ်သောသူတို့ကို ညီအစ်ကို
ဟူ၍ခေါ်ခြင်းငှါရှက်ကြောက်တော်မမူ။ ထိုသို့
၁၂ ခေါ်သောအချက်ဟူမူကား။– သီတင်းတော်ကို
အကျွန်ုပ်ညီအစ်ကိုတို့အား အကျွန်ုပ်ကြားပြော
ပါမည်။ ပရိသတ် အလယ်မှာ ကိုယ်တော်ကို
ချီးမွမ်း၍သီခြင်းဆိုပါမည်ဟု ထာသတည်း။–
၁၃ တချက်ကား၊ ငါသည် ဘုရား သခင်ကို ကိုးစား
မည်ဟု ထာသတည်း။ တဖန်ကား၊ ငါမှစ၍ ငါ
အား ဘုရား သခင် ပေးတော် မူသော သူငယ်တို့
သည်ရှိကြ၏ဟုလာသတည်း။
၁၄ ထိုသူငယ်တို့သည် အသွေးအသားနှင့် ဆက်
၁၅ ဆံကြသောကြောင့်၊ ခရစ်တော်သည် အသေခံ
တော်မူသောအားဖြင့်၊ သေခြင်းတရားကိုအစိုး
ရသောသူတည်းဟူသော မာရ်နတ်၏တန်ခိုးကို
ရှုံးပဲ့ဖျက်ဆီးခြင်းငှါ၎င်း၊ သေတေးကိုကြောက်
၍ တသက် လုံး ကျွန် ခံ ရ သော သူ တို့ကို ကယ်
လွှတ်ခြင်းငှါ၎င်း၊ ထိုသူငယ်တို့၏နည်းတူအသွေး
၁၆ အသား ကို ဆောင် ယူ တော် မူ၏။– အကြောင်း
မူကား၊ ခရစ်တော်သည်ကောင်းကင်တမန်တို့
ကိုမစတော်မူသည်မဟုတ်၊ အာဗြဟံအမျိုးကို
၁၇ မစတော်မူ၏။– ထိုကြောင့်၊ ခရစ်တော်သည်လူ
တို့၏အပြစ်ဖြေစရာအကြောင်းကိုစီရင်၍၊ ဘုရား
သခင်နှင့် စပ်ဆိုင် သောအရာတို့၌ကရုဏာနှင့်
၎င်း၊ သစ္စာနှင့် ၎င်းပြည့်စုံသောယဇ်ပုရောဟိတ်
အကြီးဖြစ်အံ့သောငှါ၊ မိမိညီအစ်ကိုတို့နှင့်လုံး
၁၈ လုံးတူ ရသော အကြောင်း ရှိ၏။– ထိုသို့ စုံစမ်း
နှောင့်ရှက်ခြင်းကိုကိုယ်တော်တိုင်ခံ၍ဒုက္ခဆင်း
ရဲခြင်း၌ ကျင်လည်သောကြောင့်၊ စုံစမ်းနှောင့်
ရှက်ခြင်းအမှုနှင့် တွေ့ကြုံသောသူတို့ကို မစခြင်း
ငှါထိုက်နိုင်တော်မူ၏။

၃

၁ ထိုသို့ ဖြစ်လျှင်၊ ကောင်းကင် ဘုံနှင့် စပ်ဆိုင်
သော ခေါ်ဗိတ်တော်မူခြင်းကျေးဇူးကိုခံရသော
သူ၊ သန့်ရှင်းသောညီအစ်ကိုတို့၊ ငါတို့ဝန်ခံသော
တမန်တော်နှင့် ယဇ်ပုရောဟိတ် မင်းတည်းဟူ
သောယေရှု၏ အကြောင်းကို စေ့စေ့ ဆင်ခြင်ကြ
၂ လော့။–မောရှေသည်ဘုရားသခင်၏အိမ်တော်တ
အိမ်လုံး၌သစ္စာစောင့်သကဲ့သို့၊ ယေရှုသည်မိမိ
ကို ခန့်ထားတော်မူသောသူ၏အမှုတော်၌ သစ္စာ
၃ စောင့်တော်မူ၏။– အိမ်ကိုဆောက်သောသူသည်
အိမ်ထက်သာ၍ ကြီးသောအသရေရှိသကဲ့သို့၊
ယေရှုသည်မောရှေထက်သာ၍ကြီးသောအသ

ရေကိုခံထိုက်သောသူဖြစ်သည်တုထင်မှတ်စရာ
၄ အကြောင်းရှိ၏။- အိမ်မည်သည်ကား၊ တစုံတ
ယောက်သော သူ ဆောက် သော့ ကြောင့် ဖြစ်၏။
အ လုံး စုံ တို့ ကို တည် ဆောက် သော သူကား၊
၅ ဘုရားသခင်ပေတည်း။- မောရှေသည်၊ နောက်
ဟော ပြော ထုတ် သော အရာတို့ကို သက်သေခံ
ခြင်းအလိုငှါ၊ အစေခံ ကဲ့သို့ အိမ်တော်တအိမ်
၆ လုံး၌သစ္စာစောင့်၏။- ခရစ်တော်မူကား၊ သား
ကဲ့သို့အိမ်တော်ကိုအုပ်စိုး၍ သစ္စာစောင့်တော်
မူ၏။ငါတို့သည်ကား၊ရဲရင့်ခြင်း၌၎င်း၊ မျှော်လင့်
ခြင်းနှင့်စပ်ဆိုင်သောဝါကြွားဝမ်းမြောက်ခြင်း
၌၎င်း၊ အဆုံး တိုင် အောင် တည်ကြည် လျှင်၊ ထို
အိမ်တော်ဖြစ်သတည်း။
၇ ထိုကြောင့်၊ သန့် ရှင်းသော ဝိညာဉ်တော် မိန့်
တော်မူသည်ကား၊ ယနေ့တွင် သင်တို့သည်ဗျာ
ဒိတ် တော်အသံကို ကြားလျှက်ရှိသည်ဖြစ်၍၊-
၈ ခိုင်မာသောစိတ်နှလုံးမရှိကြနှင့်။ သင်တို့အဘ
၉ ဘွားသည်အနှစ်လေးဆယ်ပတ်လုံးငါ့ကိုအနှောင့်
အယှက်ပြု၍ စုံစမ်း၍၊ ငါ၏အမှုတို့ကိုမြင်ရသောတော
တွင်ငါ့ကိုဆန့်ကျင်ဘက်ပြု၍စုံစမ်းရာကာလ၌ရှိ
၁၀ သကဲ့သို့၊မရှိစေကြနှင့်။- ထိုလူမျိုးကိုငါ စွဲသည်
ဖြစ်၍၊သူတို့သည်အစဉ်စိတ်သဘောမှားယွင်း
တတ်ကြ၏။ငါ၏အလေ့အလာတို့ကိုနားမလည်
၁၁ ကြဟုငါဆိုရ၏။- ထိုကြောင့်၊ သူတို့သည် ငါ၏
ချမ်းသာထဲသို့မဝင်ရကြဟု၊ အမျက်ထွက်၍ ငါ
ကျိန်ဆိုသည်ဟု မိန့်တော်မူချက်ရှိသည် နှင့် အ
၁၂ ညီ၊-ညီအစ်ကိုတို့၊သင်တို့သည်အသက်ရှင်တော်
မူသော ဘုရားသခင်ထံတော်မှထွက်သွားသော
အားဖြင့်၊ မယုံကြည်တတ်၊ ဆိုးညစ်သောစိတ်
၁၃ နှလုံးမရှိစေခြင်းငှါသတိပြုကြလော့။-ဒုစရိုက်
၏ လှည့်ဖြားခြင်း အားဖြင့် သင်တို့ စိတ်နှလုံး
မခိုင်မာ စေခြင်းငှါ၊ ယနေ့ဟူ၍ ခေါ်ဝေါ်သော
အချိန်၊နေ့တိုင်းအစဉ် အချင်းချင်း တယောက်
ကိုတယောက်တိုက်တွန်းနှိုးဆော်ကြလော့။
၁၄ ငါတို့ သည် မိတ် စွဲထမ်းခြင်းကို အစ ပြုသကဲ့
သို့ အဆုံးတိုင် အောင် တည် ကြည် လျှင်၊ ခရစ်
၁၅ တော်နှင့်ဆက်ဆံသောသူဖြစ်ကြ၏။-ယနေ့တွင်
သင်တို့သည်ဗျာဒိတ်တော် အသံကို ကြားလျှက်
ရှိသည်ဖြစ်၍၊ ဆန့်ကျင်ဘက် ပြုရာ ကာလ၌ ရှိ
သကဲ့သို့၊ခိုင်မာသောစိတ်နှလုံး မရှိကြ နှင့်ဟု
၁၆ ကျမ်းစာ လာသည်အရာမှာ၊- ကြားပြီးမှ ဆန့်
ကျင်ဘက်ပြုသောသူတို့ကား၊အဘယ်သူနည်း။
မောရှေနောက်သို့လိုက်၍အဲဂုတ္တုပြည်မှထွက်
လာသောသူအပေါင်းတို့သည်ထိုသို့ပြုကြသည်
၁၇ မဟုတ်လော၊- အနှစ် လေး ဆယ် ပတ်လုံး နှစ်
သက် တော် မမူ သော သူ တို့ ကား၊ အဘယ်သူ
နည်း။ ဒုစရိုက်အပြစ်ကိုပြုသောကြောင့်တော၌
၁၈ လဲ၍သေသောသူပင်မဟုတ်လော။-သင်တို့သည်
ငါ၏ချမ်းသာထဲသို့ မဝင် ရကြဟု ကျိန်ဆိုတော်
မူသောသူတို့ကား၊ မယုံကြည်သောသူမှတပါး
၁၉ အဘယ်သူနည်း။- ထိုဖြစ်၍၊ သူတို့သည် မယုံ
ကြည်သောကြောင့်သာ မဝင်နိုင်သည်ကို ငါတို့
သိမြင်ကြ၏။

၄

၁ ထိုကြောင့်၊ ဘုရားသခင်၏ချမ်းသာထဲသို့ဝင်
ရသောအခွင့်ကိုပေးသောဂတိတော်သည်ငါတို့
၌ရှိရစ်လျက်နှင့်၊ သင်တို့တွင်အချို့တို့သည်မရှိ
၂ ဘဲနေမည်ကိုစိုးရိမ်ကြကုန်အံ့။-ငါတို့သည်ဝမ်း
မြောက်စရာသိတင်းကိုထိုသူတို့ကဲ့သို့ကြားရကြ
ပြီ။ သို့ရာတွင်၊ သူတို့ကြားရသောတရားစကား
သည်၊ ကြားရသောသူတို့အထဲ၌ယုံကြည်ခြင်း
နှင့် မရောနှော သောကြောင့် အကျိုးကိုမပေး။-
၃ ငါတို့မူကား၊ယုံကြည်သောသူဖြစ်၍ဘုရားသခင်
၏ချမ်းသာထဲသို့ဝင်ရကြ၏။ ထိုသို့နှင့်အညီ ဗျာ
ဒိတ်တော်ကား၊ သူတို့သည်ငါ၏ချမ်းသာထဲသို့
မဝင်ရကြဟု၊ အမျက်ထွက်၍ ငါကျိန်ဆိုသည်
ဟုလာ၏။ ချမ်းသာဟုဆိုသော်၊ကမ္ဘာဦးကာလ
အမှုအရာတို့ကိုပြီးစီး၍ငြိမ်ဝပ်တော်မူရာချမ်း
၄ သာဟုဆိုလိုသတည်း။-ခုနစ်ရက်မြောက်သော
နေ့ကို အကြောင်းပြု၍ ကျမ်းစာ တချက်၌ လာ
သည်ကား၊ ဘုရားသခင် သည် မိမိအမှုအရာအ
လုံးစုံတို့ကိုပြီးစီး၍ခုနစ်ရက်မြောက်သောနေ့၌
၅ ငြိမ်ဝပ်စွာ နေတော်မူ၏ဟု လာ သတည်း။- ထို
ကျမ်းစာ၌တဖန်လာသည်ကား၊သူတို့သည်ငါ၏
၆ ချမ်းသာထဲသို့ မဝင်ရကြဟုလာသတည်း။- ထို
ကြောင့်၊အချို့တို့သည်ဝင်ရကြ၏။ ဝမ်းမြောက်
စရာ သိတင်း ကို ရှေဦးစွာ ကြား ရ သော သူတို့
သည်မယုံကြည်သောကြောင့်မဝင်ရကြပြီ။
၇ တဖန်တုံ၊ယနေ့တွင်သင်တို့သည်ဗျာဒိတ်တော်
အသံကို ကြားလျက်ရှိသည် ဖြစ်၍ ခိုင်မာသော
စိတ် နှလုံး မရှိကြနှင့်ဟု ဆိုသည်ဖြစ်၍၊ ဤမျှ
လောက်ကာလကြာပြီးမှ၊ ယနေ့ဟု ဒါဝိဒ်ကျမ်း
စာ၌လာသော အခါ၊ တစုံတခုသော နေ့ရက်ကို
၈ သေချာစွာမှတ်သားသတည်း။-ယောရှုသည်ထို

သူထို့ကိုချမ်းသာပေးသည် မှန်လျှင်၊ ထိုနောက်
အခြားသော နေ့ရက်ကို အဘယ်ဆိုဘွယ် ရှိသ
၉ နည်း။- ထိုကြောင့်၊ ဘုရားသခင်၏လူတို့အမှိအ
လိုင့ါ ငြိမ်ဝပ်ခြင်းချမ်းသာတမျိုးသည်ကျန်ရစ်
၁၀ သေး၏။- ဘုရားသခင်သည်မိမိအမှုအရာတို့ကို
ပြီးစီး၍ငြိမ်ဝပ်စွာနေတော်မူသည်နည်းတူ၊ ထို
ချမ်းသာထဲသို့ ဝင်ရသောသူသည်လည်းမိမိအ
မှုအရာတို့ကိုပြီးစီး၍ငြိမ်ဝပ်စွာနေရ၏။
၁၁ ထိုကြောင့်၊ ဣသရေလလူတို့သည်မယုံကြည်
သောစိတ်ရှိသဖြင့် လဲသကဲ့သို့ ငါတို့သည် မလဲ၊
ထိုချမ်းသာထဲသို့ဝင်ရမည်အကြောင်း ကြိုးစား
၁၂ အား ထုတ်ကြကုန်အံ့။- ဘုရားသခင်၏ နှုတ်က
ပတ်တရားတော်သည်အသက်ရှင်ခြင်း၊ တန်ခိုး
နှင့်ပြည့်စုံခြင်း၊ သန်လျက်တကာတို့ထက်ထက်
ခြင်းနှင့် ပြည့်စုံသည် ဖြစ်၍၊ အသက်နှင့် စိတ်
ဝိညည် ကိုင်ငင်၊ အရိုးဆစ်နှင့် ခြင်ဆီကိုင်ငင် ပိုင်း
ခြား၍ ထုတ်ချင်း ခွင်းတတ်၏။ စိတ်နှလုံး အ
၁၃ ကြံအစည်အကြံကိုလည်း သိမြင်တတ်၏။- ငါတို့
ကို စစ်ကြော စီရင်တော်မူသော သူရှေ့၌ မထင်
ရှားသော အရာတစုံတခုမျှမရှိ။ ခပ်သိမ်းသော
အရာတို့သည်အကွယ်အကာမရှိဘဲ၊ မျက်မှောက်
တော်၌လှန်ထားလျက်ရှိကြ၏။
၁၄ ယခုမူကား၊ ကောင်းကင်ဘုံထဲသို့ကြွဝင်တော်
မူသော ယဇ်ပုရောဟိတ် မင်းအကြီး တည်းဟူ
သောဘုရားသခင်၏သားတော်ယေရှုသည်၊ ငါ
တို့၌ ယဇ် ပုရော ဟိတ် မင်း ဖြစ် တော် မူသော
ကြောင့်၊ ငါတို့သည်ဝန်ခံခဲ့ပြီးသောအရာ၌ တည်
၁၅ ကြည်ကြကုန်အံ့။- ငါတို့ ယဇ်ပုရောဟိတ် မင်း
သည် ငါတို့ခံရသောဆင်းရဲဒုက္ခများကြောင့် မ
ကြင်နာနိုင်သောသူမဟုတ်။ ငါတို့ခံရသည်နည်း
တူ၊ အမျိုးမျိုးသော စုံစမ်းနှောင့်ရှက်ခြင်းတို့ကို
ခံဘူးသောသူဖြစ်တော်မူ၏။ သို့ရာတွင်၊ ဒုစရိုက်
၁၆ အပြစ်နှင့်ကင်းလွတ်တော်မူ၏။- ထိုကြောင့်၊ ငါ
တို့သည်သနားခြင်းကရုဏာကိုင်ငင်၊ တော်လျော်
သော မစခြင်း ကျေးဇူး တော်ကိုင်ငင် ခံရမည် အ
ကြောင်း၊ ရဲရင့် သော စိတ်နှင့် ကျေးဇူး ပလ္လင်
တော်သို့တိုးဝင်ချဉ်းကပ်ကြကုန်အံ့။

၅

၁ လူတို့တွင်ရွေးကောက်သောယဇ်ပုရောဟိတ်
မင်းမည်သည်ကား၊ ပူဇော်သကာကိုင်ငင်၊ အပြစ်
ဖြေရာယဇ်ကိုင်ငင်ပူဇော်၍၊ လူတို့အတွက်ဘုရား
ဝတ်ကိုပြုစေခြင်းငှါခန့်ထားတော်မူသောသူဖြစ်
၂ ၏။- သူသည်ကိုယ်တိုင်နွမ်းရိအားနည်းခြင်းရှိ
သည်ဖြစ်၍၊ မိုက်သောသူ၊ မှားယွင်းသောသူတို့
၃ ကိုသည်းခံခြင်းငှါ တတ်နိုင်၏။- ထိုအကြောင်း
ကြောင့်လည်း၊ လူများအပြစ်နှင့် မိမိ အပြစ်ကို
၄ ဖြေခြင်းငှါပူဇော်ရ၏။- ဘုရားသခင်သည်အာ
ရုန်ကိုခေါ်တော်မူသကဲ့သို့ခေါ်တော်မူသောသူမှ
တပါး၊ အဘယ်သူမျှ ထိုအရာမြတ်ကို မသိမ်းမ
၅ ယူရ။- ထိုနည်းတူ၊ ခရစ်တော်သည်ယဇ်ပုရော
ဟိတ် မင်း အရာ၌ မိမိကို မိမိ ချီးမြှောက်သည်မ
ဟုတ်။ သင်သည်ငါ့သား ဖြစ်၏။ ယနေ့ပင်သင့်ကို
ငါဖြစ်ဖွားစေပြီဟု မိန့်တော်မူသောသူသည်ခရစ်
၆ တော်ကို ချီးမြှောက်တော်မူ၏။- ထိုသို့နှင့် အညီ
ကျမ်းစာတချက် လာသည်ကား၊ သင်သည် မေ
လခိဇေဒက် နည်းတူ ထာဝရ ယဇ်ပုရောဟိတ်
ဖြစ်သည်ဟုလာသတည်း။
၇ ထိုခရစ်တော်သည်လူဇာတိအဖြစ်၌ နေစဉ်
ကာလ၊ သေခြင်းမှ ကယ်လွှတ်နိုင်တော်မူသော
သူကို၊ ကြီးစွာသောကျွေးကြော်ခြင်း၊ မျက်ရည်
ကျခြင်းနှင့်ဆုတောင်းပဌနာပြုသဖြင့်၊ ကြောက်
၈ ရွံ့ရာအမှု၌ချမ်းသာရသည်ဖြစ်၍၊ ဘုရားသခင်
၏သားတော်မှန်သော်လည်း၊ ဆင်းရဲဒုက္ခကိုခံ
သောအားဖြင့်နားထောင်ခြင်းအကျိုးအကြောင်း
၉ ကိုသင်တော်မူ၏။- ထိုသို့စုံလင်ခြင်းသို့ ရောက်
ပြီးမှ၊ ယုံကြည်နားထောင်သောသူအပေါင်းတို့
အားထာဝရကယ်တင်ခြင်းကျေးဇူးကိုပြုသော
၁၀ သူဖြစ်တော်မူ၍၊- မေလခိဇေဒက်ကဲ့သို့သော
ယဇ်ပုရောဟိတ်မင်း ဟု၊ ဘုရားသခင် သမုတ်
တော်မူခြင်းကိုခံရ၏။
၁၁ ထိုမေလခိဇေဒက်၏အကြောင်းကိုငါတို့ပြော
စရာစကားအများရှိ၏။ သို့သော်လည်း၊ သင်တို့
သည် ညာဏ် နုံ့သောကြောင့် အပြောခက်လှ
၁၂ ၏။-သင်တို့သည်ကာလကြာသောကြောင့်ဆရာ
အဖြစ်သို့ရောက်သင့်သော်လည်း၊ ဘုရားသခင်
၏ဗျာဒိတ်တော်၌ ရှေးဦးစွာသင်ရသောတရားနှ
တို့ကိုသူတပါးထံ၌တဖန်သင်ရသောအကြောင်း
ရှိသည်ဖြစ်၍၊ ကြံ့ခိုင်သောအစာကိုမသုံးဆောင်၊
၁၃ နို့ကိုသာသုံးဆောင်ရသောသူဖြစ်ကြ၏။- နို့ကို
သာသုံးဆောင်သောသူမည်သည်ကား၊ သူငယ်
ဖြစ်သောကြောင့် ဖြောင့်မတ်ခြင်း တရား၌ တွေ့
၁၄ လာခြင်းမရှိ။- ကောင်းကျိုး မကောင်းကျိုးကို
ပိုင်းခြား၍သိနိုင်သော ညာဏ်ပေးတတ်သော၊
အကြားအမြင်အတွေ့အစမ်းများသော သူတည်း

ဟူသော၊ စုံလင်သော အရွယ် ရှိသော သူတို့မူ
ကား၊ ကြေခဲသောအစာအာဟာရကိုသုံးဆောင်
ရကြ၏။

၆

၁ ထိုကြောင့်၊သေခြင်းနှင့်စပ်ဆိုင်သောအကျင့်
ကိုနောင်တရခြင်း၊ဘုရားသခင်ကိုယုံကြည်ခြင်း၊
နှစ်ခြင်းတရားကို သွန်သင်ခြင်း၊ လက်ကို တင်
ခြင်း၊ သေလွန်သောသူတို့၏ထမြောက်ခြင်း၊ထာ
ဝရ စီရင် ဆုံးဖြတ်ခြင်း တည်းဟူ သော မူလ အ
မြစ်ကိုငါတို့သည်ပြန်၍မတည်ဘဲ၊ခရစ်တော်၏
အာသာ၌ အစအဦး ဖြစ်သောအကြောင်း အရာ
တို့ကို ထား၍၊ စုံလင် သော အဖြစ်သို့ တက်ကြ
၃ ကုန်အံ့။- ဘုရားသခင် အခွင့်ပေးတော်မူလျှင်၊
၄ ငါတို့သည်ထိုသို့ပြုကြမည်။- အလင်းသို့ တခါ
ရောက်၍ ကောင်းကင်ဆုကျေးဇူးကို မြည်းစမ်း
ခြင်း၊သန့်ရှင်းသောဝိညာဉ်တော်ကိုခံယူခြင်း၊-
၅ ဘုရားသခင်၏ ကောင်းမြတ်သော တရားစကား
ကိုငှင်၊ နောင် ကပ်ကာလ၏ တန်ခိုး များကို ငှင်
၆ မြည်းစမ်းခြင်းရှိပြီးမှ၊- ရွေလျော့ ဖောက် ပြန်
သောသူတို့သည်၊မိမိတို့တွင်ဘုရားသခင်၏သား
တော် ကို လက်ဝါးကပ်တိုင်မှာ ကူပ်မျက် ၍ အ
သရေတော်ကို ရှုတ်ချသောသူဖြစ်သောကြောင့်၊
နောက်တဖန်နောင်တရအံ့သောငှါအသစ်ပြုပြင်
၇ ခြင်းသို့မရောက်နိုင်ကြ။- ဥပမာကား၊ အကြင်
မြေသည် မိမိအပေါ်သို့ အဖန်ဖန်ကျသောမိုဃ်း
ရေကိုသောက်၍၊ လုပ်သောသူသုံးဘို့ဟင်းသီး
ဟင်းရွက်ကိုဖြစ်စေတတ်၏၊ ထိုမြေသည်ဘုရား
၈ သခင်၏ ကောင်းကြီး မင်္ဂလာကိုခံတတ်၏။- အ
ကြင်မြေသည် ဆူးပင် အမျိုးမျိုးကို ဖြစ်စေတတ်
၏၊ ထိုမြေသည်ပြုစုခြင်းကိုမခံထိုက်၊ ကျိန်ခြင်း
ကိုခံရသောအချိန်နီးသည်ဖြစ်၍၊ နောက်ဆုံး၌
မီးရှို့ခြင်းသို့ရောက်တတ်၏။
၉ ထိုသို့ပြောသော်လည်း၊ချစ်သူတို့၊သင်တို့သည်
ကယ်တင် ခြင်း နှင့် ရှည်သော အ ရာ၊ သာ၍
ကောင်းသော အရာတို့နှင့် ဆိုင်သည်ကို၊ ငါတို့
၁၀ သည်သဘောကျလျက်ရှိကြ၏။- အကြောင်းမူ
ကား၊ သင်တို့သည်သန့်ရှင်းသူတို့ကိုအထက်က
လုပ်ကျွေးသည်သာမက၊ယခုပင်လုပ်ကျွေးခြင်း
အမှုကိုငှင်၊ထိုသို့ပြုသောအားဖြင့် နာမတော်ကို
ထောက်၍ ပြသောမေတ္တာကိုငှင်၊ ဘုရား သခင်
သည် မေ့လျော့သည်တိုင်အောင် အဓမ္မ အမှုကို
၁၁ ပြုတော်မူသည် မဟုတ်။- သင်တို့ ရှိသမျှ သည်
၁၂ ပျင်းရိခြင်း နှင့် ကင်းလွတ်၍ ယုံကြည်ခြင်း နှင့်
သည်းခံခြင်းအားဖြင့် ဂတိတော်တို့ကိုအမွေခံရ
သောသူတို့နည်းတူကျင့်နိုင်မည်အကြောင်း၊ထို
သို့သော လုံ့လ ဝီရိယ ကို ထုတ် ၍၊ အ ဆုံး တိုင်
အောင်ယုံမှားခြင်းနှင့် ကင်းသောမျှော်လင့်ခြင်း
နှင့်ပြည့်စုံစေခြင်းငှါငါတို့သည်အလိုရှိကြ၏။
၁၃ ဘုရားသခင်သည်အာဗြဟံ၌ ဂတိထားတော်
မူသောအခါ၊ ကိုယ်တော်ထက် သာ၍ ကြီးမြတ်
သောသူကို တိုင် တည်၍ ကျိန် ဆို ရန် မရှိ သော
၁၄ ကြောင့်၊ ကိုယ်တော်ကိုတိုင်တည်၍၊- ငါသည်
သင့်အား အစည်အမြဲ ကောင်း ကြီး ပေး မည်။
သင့်ကိုအစည်အမြဲပွားများစေမည်ဟု ကျိန်ဆို
၁၅ တော်မူ၏။-ထိုသို့နှင့်အညီအာဗြဟံသည်သည်း
ခံလျက်စောင့်နေပြီးမှ၊ဂတိတော်ကိုဝင်စားလေ
၁၆ ၏။- လူတို့သည် မိမိထက်ကြီးမြတ်သောသူကို
တိုင်တည်၍ကျိန်ဆိုလေ့ရှိကြ၏။ မြဲမြံစေတတ်
သောအကျိန်သည်ငြင်းခုံခြင်းရှိသမျှကိုဖြေတတ်
၁၇ ၏။-ထိုကြောင့်၊ဂတိတော်ကိုအမွေခံရသောသူ
တို့သည်၊ ဘုရားသခင်၏ အကြံအစည်တော် မ
ဖောက်ပြန်နိုင်ကြောင်းကို အတပ်သိစေခြင်းငှါ၊
ဘုရား သခင် သည် အ ကျိန် အားဖြင့် အာမ ခံ
၁၈ တော်မူ၏။- အကြောင်း မူ ကား၊ ဘုရားသခင်
သည်မုသာမသုံးနိုင်သောအရာတည်းဟူသော၊
မဖောက်ပြန် မပြောင်းလဲ နိုင်သော အရာနှစ်ပါး
ကိုအမှီပြု၍၊ ကိုယ်ရှေ့၌ ထားသောမျှော်လင့်ရာ
ကိုမိုလှုံ ခြင်းငှါ ပြေးသော ငါတို့သည် သက်သာ
၁၉ အားကြီးကြမည် အကြောင်းတည်း။- ထိုမျှော်
လင့်ခြင်းမူကား၊ ကုလားကာအတွင်း၌ချည်၍ မြဲမြံ
နိုင်ခံ့သောစိတ်နှစ်လုံး၏ကျောက်ဆူးကဲ့သို့ငါတို့
၂၀ ၌ရှိသတည်း။- မေလခိဇေဒက်နည်းတူ၊ထာဝရ
ယဇ်ပုရောဟိတ်မင်း ဖြစ် သော ယေရှုသည်၊ ငါ
တို့အတွက်၊ထိုအတွင်းအရပ်ထဲသို့ရှေ့ဆောင်၍
ဝင်သောသူဖြစ်တော်မူ၏။

၇

၁ မင်းကြီးများကို လုပ်ကြံ ရာမှ ပြန် လာ သော
အာဗြဟံကိုခရီးဦးကြိုပြု၍ ကောင်းကြီးပေးပြီး
၂ လျှင်၊- အာဗြဟံလှူသောထတ်ရုဥ္စာအိမ္မသမျှကို
ဆယ်ဘို့တဘို့ခံယူသောထိုရှာလင်မင်းကြီးတည်း
ဟူသော၊ အမြင့်ဆုံးသော ဘုရားသခင်၏ ယဇ်
ပုရောဟိတ် မေလခိဇေဒက်သည်၊ နာမရင်းအ
နက်အားဖြင့်တရားမင်း၊ ထိုမှတပါး၊ ငြိမ်သက်
ခြင်းမင်းဟုဆိုလိုသော ရှာလင်မင်းဖြစ်လျှက်၊-

၃ အခမရှိ၊ အမိမရှိ၊ ရွေရိုးစဉ်မရှိ၊ အသက်အ
ပိုင်းအခြားမရှိဘဲ၊ဘုရားသခင်၏သားတော်နှင့်
တူ၍၊ယဇ်ပရောဟိတ်အရာ၌အစဉ်အမြဲတည်
၄ ၏။- အမျိုး၏အဘအာဗြဟံသည်၊ထက်ရဥစ္စာ
များကို ဆယ်ဖို့ တဖို့လှူ၍ အလှူခံသော ထိုမင်း
သည့်အဘယ်မျှလောက် ကြီးမြတ်သည်ကိုဆင်
၅ ခြင်ကြလော့။- ယဇ်ပရောဟိတ်အရာကိုခံသော
လေဝိသားတို့သည်အာဗြဟံအမျိုးဖြစ်သောသူ
တည်း၊ ဟူ သော၊ မိမိ တို့ ညီအစ်ကို များ ထက် မှ
ပညတ်တရားအတိုင်း ဆယ်ဖို့တဖို့ကိုခံရသော
၆ အခွင့်ရှိကြ၏။-သူတို့အမျိုးမဟုတ်သောထိုမင်း
မူကား၊ အာဗြဟံ၏ထက်မှဆယ်ဖို့တဖို့ကိုခံထေ
၏။ဂတိတော်တို့ကိုခံရသောသူကိုလည်းကောင်း
၇ ကြီးပေးလေ၏။- ကြီးသောသူသည် ငယ်သော
သူကိုကောင်းကြီးပေးတတ်သည်ကို ငြင်းခုံဘွယ်
၈ မရှိ။-ထိုမှတပါး၊သေတတ်သောသူတို့သည်ယခု
အခါ ဆယ်ဖို့တဖို့ကိုခံလေ့ရှိ၏၊ ထိုအခါမူကား၊
အထက်ရှင်သည်ဟု သက်သေခံခြင်းကိုရသော
၉ သူသည်ဆယ်ဖို့တဖို့ကိုခံရ၏။-ထိုမှတပါး၊ဆယ်
ဖို့တဖို့ကိုခံတတ်သောလေဝိသည်အာဗြဟံအား
ဖြင့် ဆယ်ဖို့တဖိုကို ပေးပြီဟု ဆိုစရာ အခွင့်ရှိ
၁၀ ၏။- အကြောင်းမူကား၊ မေလခိဇေဒက် သည်
အာဗြဟံကိုတွေ့သောအခါ၊ လေဝိသည်မိမိအဘ
၏ကိုယ်၌ရှိသတည်း။
၁၁ တနည်းကား၊ လေဝိမှ ဆင်းသက်သော ယဇ်
ပရောဟိတ် အမျိုးနှင့် စပ်ဆိုင်လျက် လူများတို့
သည် ပညတ်တရားတော်ကိုခံကြသောကြောင့်၊
ထိုအမျိုးအားဖြင့်စုံလင်ခြင်းသို့ရောက်နိုင်သည်
မှန်လျှင်၊အခြားသောယဇ်ပရောဟိတ်သည်၊အာ
ရုန် နည်းတူမခေါ်ဝေါ်ဘဲ၊ မေလခိဇေဒက်နည်း
တူပေါ်ထွန်းစရာအကြောင်း အဘယ်သို့ရှိသေး
၁၂ သနည်း။- ယဇ်ပရောဟိတ်အမျိုးသည်ပြောင်း
လဲလျှင်၊ပညတ်တရားသည် မပြောင်းလဲဘဲမနေ
၁၃ နိုင်ရာ။- ထိုဗျာဒိတ်တော်ကိုခံရသောသူသည်၊
ယဇ်ပလ္လင်ဝတ်ကိုတယောက်မျှမပြုရသောအ
၁၄ မျိုးနှင့်စပ်ဆိုင်ပေ၏။- အကြောင်းမူကား၊ငါတို့
သခင်သည် ယုဒအမျိုး၌ ပေါ်ထွန်း သည်ဟု
ထင်ရှားလျက် ရှိ၏၊ ထိုအမျိုးသည် ယဇ်ပရော
ဟိတ်အရာနှင့် စပ်ဆိုင်သည်ဟု၊ မောရှေ သည်
၁၅ တခွန်း ကိုမျှ မပြော။- ထိုမှတပါး၊ မေလခိဇေ
ဒက်နည်းတူအခြားသောယဇ်ပရောဟိတ်သည်
ပေါ်ထွန်းသည်မှန်လျှင်၊ယဇ်ပရောဟိတ်အမျိုး
၁၆ ပြောင်းလဲပြီဟု သာ၍ ထင်ရှား၏။- ထိုယဇ်
ပရောဟိတ်သည် ကိုယ်ခန္ဓာနှင့် စပ်ဆိုင် သော
တရား အတိုင်း ခန့်ထားလျက်ရှိသည် မဟုတ်၊
ထာဝရ အသက်၏ တန်ခိုး အားဖြင့် အတိုင်း
၁၇ ခန့်ထားလျက်ရှိသတည်း။-အကြောင်းမူကား၊
သင်သည်မေလခိဇေဒက်နည်းတူ၊ထာဝရယဇ်
ပရောဟိတ်ဖြစ်သည်ဟု သက်သေ ခံတော်မူသ
တည်း။
၁၈ ပညတ်တရားသည် အဘယ် သူကိုမျှ စုံလင်
၁၉ ခြင်းသို့ မပို့နိုင်သည်ဖြစ်၍၊ ရှေးပညတ်တရား
ဟောင်းသည်၊အားမရှိ၊အကျိုးကိုမပေးနိုင်သော
ကြောင့်၊ ပယ်ရှင်းခြင်းသို့ရောက်ရ၏။ သို့သော်
လည်း၊ သာ၍ မြတ်သော မျှော်လင့်ခြင်း အခွင့်
သည်နေရာကျ၏။ ထိုမျှော်လင့်ခြင်းအားဖြင့် ငါ
တို့သည်ဘုရားသခင်အထံတော်သို့တိုး၀င်ချဉ်း
၂၀ ကပ်ရကြ၏။-ထိုသူတို့သည်အကျိန်တော်မရှိဘဲ
၂၁ ယဇ်ပရောဟိတ်အရာကိုရကြ၏။-ယေရှုမူကား၊
အကျိန်တော်မရှိဘဲ ယဇ်ပရောဟိတ်အရာကိုမ
ရ၊ထာဝရဘုရားက၊ သင်သည် မေလခိဇေဒက်
နည်းတူ ထာဝရ ယဇ်ပရောဟိတ် ဖြစ်သည်ဟု
ကျိန်ဆို၍၊ နောက်တဖန် စိတ်ပြောင်းလဲခြင်းရှိ
တော်မမူသည် နှင့် အညီ၊ ယေရှုသည် အကျိန်
တော်ကိုခံ၍ ယဇ်ပရောဟိတ်အရာကို ရသည်
၂၂ အတိုင်း၊- သာ၍ မြတ်သောပဋိညည် တရား၏
၂၃ အာမခံဖြစ်၏။-ထိုသူတို့သည်လည်းသေရသော
ကြောင့် အစဉ်မတည်နိုင်သည်ဖြစ်၍အများရှိ
၂၄ ရကြ၏။- ယေရှုမူကား၊ နိစ္စထာဝရတည်သော
ကြောင့် မပြောင်းမလဲသော ယဇ်ပရောဟိတ်အ
၂၅ ရာ၌ခန့်ထားလျက်ရှိ၏။- ထိုကြောင့်၊အကြင်သူ
တို့သည်ယေရှုအားဖြင့်ဘုရားသခင်အထံတော်
သို့ ချဉ်းကပ်ကြ၏၊ ထိုသူတို့၏ အမှု ကို ကိုယ်
တော်သည်စောင့်လျက်၊ ကာလအစဉ်အသက်
ရှင်သောကြောင့်၊ သူတို့ ကို အစဉ် ကယ်တင်
ခြင်းငှါတတ်နိုင်တော်မူ၏။
၂၆ ထိုသို့သောယဇ်ပရောဟိတ်မင်းသည်သန့်ရှင်း
စင်ကြယ်၍အညစ်အကြေးနှင့်ကင်း၊လွတ်လျက်
အပြစ်ရှိသောသူတို့နှင့် မဆက်ဆံ၊ ကောင်းကင်
သားအပေါင်းတို့ထက် မြင့်မြတ်သောသူဖြစ်၍၊
၂၇ ငါတို့နှင့်တော်သင့်တော်မူ၏။-အခြားသောယဇ်
ပရောဟိတ်မင်းတို့သည်ကိုယ်အပြစ်ကြောင့်၎င်း၊
လူများအပြစ်ကြောင့်၎င်း၊ နေ့တိုင်းယဇ်ပူဇော်
ရသကဲ့သို့၊ ထိုသခင် သည် ယဇ်ပူဇော်စရာ အ

ကြောင်း မရှိ။ အဘယ်ကြောင့်နည်း ဟူမူကား၊
မိမိကိုယ်ကို တခါတည်း ယဇ်ပူဇော်၍ ထိုအမှု
၂၈ ကိုပြီးစေတော်မူပြီ။-ပညတ်တရားသည်အပြစ်ရှိ
သောသူတို့ကို ယဇ်ပရောဟိတ်အရာ၌ ခန့်ထား
၏။ ပညတ်တရားနောက်၌ကျိန်ဆိုတော်မူသော
ဗျာဒိတ်တော်မူကား၊ အစဉ်အမြဲ စုံလင်ခြင်းသို့
ရောက်သောသားတော်ကိုခန့်ထားသတည်း။

၈

၁ ယခု ဆိုခဲ့ပြီးသော အကြောင်းအရာ တို့၏ အ
ချုပ် အချာ ဟူမူကား၊ ထိုသို့သော ယဇ် ပရော
ဟိတ် မင်းသည် ငါတို့၌ရှိ၏။ ကောင်းကင် ဘုံ၌
တန်ခိုး အာနုဘော်တော်၏ ပလ္လင် ထက်ျာဘက်
၂ မှာထိုင်နေတော်မူ၏။- လူမဆောက်ဘဲ ထာဝရ
ဘုရား ဆောက်တော်မူသော တဲတော်စစ် တည်း
ဟူသော၊ သန့်ရှင်းရာ ဌာန၌ ဘုရားဝတ်ကို ပြု
၃ သောသူ ဖြစ်တော်မူ၏။- ယဇ်ပရောဟိတ် မင်း
မည်သည်ကား၊ ပူဇော်သကာနှင့်ယဇ်ကိုပူဇော်
စေခြင်းငှါ ခန့်ထားလျက် ရှိသည် ဖြစ်၍၊ ငါ တို့
ယဇ် ပရောဟိတ် မင်းသည်လည်း ပူဇော်စရာ
၄ ထိုက်တစုံတခုရှိရ၏။- ပညတ်တရားအတိုင်းပူ
ဇော်သကာကိုဆက်ကပ်သောယဇ်ပရောဟိတ်
များ ရှိကြသည် ဖြစ်၍၊ ထိုသခင်သည် မြေကြီး
၅ ပေါ်မှာရှိနေလျှင်ယဇ်ပရောဟိတ်မလုပ်ရ။-မော
ရှေသည်တဲတော်ကိုဆောက်လုပ်အံ့သောအခါ၊
တောင်ပေါ်မှာ သင့်အား ပြခဲ့ပြီးသောပုံနှင့် ညီ
လျော်စွာ အလုံးစုံတို့ကို လုပ်ခြင်းငှါ သတိပြုရ
မည်ဟုဗျာဒိတ်တော်ကိုခံရသင့်ဖြစ်၍၊ ထိုယဇ်
ပရောဟိတ်တို့သည် ကောင်းကင်အရာတို့၏ပုံပ
မာအရိပ်နှင့်သာဆိုင်လျက်ဝတ်ကိုပြုနေကြ၏။
၆ ထိုမှ တပါး၊ ယေရှုသည် သာ၍ မြတ် သော
ဂတိတော်တို့၌ တည် သော၊ သာ၍ မြတ်သော
ပဋိညာဉ် တရား၏ အာမခံ ဖြစ်သည်နှင့် အညီ၊
သာ၍ မြတ် သော ဝတ်ပြုခြင်း အခွင့်အရာကို ရ
၇ တော်မူ၏။- ပဌမပဋိညာဉ်တရားသည် အပြစ်
တင်ခွင့် မရှိသည် မှန်လျှင်၊ ဒုတိယ ပဋိညာဉ်
တရား တည်ရသော အခွင့်ကို အဘယ် ကြောင့်
၈ ရှာရသနည်း။- ပဌမပဋိညာဉ်တရားကိုထာဝရ
၉ ဘုရားသည်အပြစ်တင်၍မိန့်တော်မူသည်ကား၊
ငါသည် ဤလူမျိုး၏ ဘိုးဘေးတို့ကို လက်ဆွဲ၍
အဲဂုတ္တုပြည်မှ ဆောင်သွားသောအခါ၊ သူတို့၌
ငါပေးသော ပဋိညာဉ် တရားနှင့် ခြားနားသော
ပဋိညာဉ်တရားသစ်ကို ဣသရေလအမျိုးသား၊
ယုဒအမျိုးသားတို့၌ ငါပေးသော အချိန်ကာလ
ရောက်လိမ့်မည်။ အရင်ငါပေးဘူးသောပဋိညာဉ်
တရား၌ သူတို့သည်မတည်ကြ။ ငါသည်လည်း
၁၀ သူတို့ကိုမကြည့်ရှုမပြုစုဘဲနေ၏။- နောင်ကာလ
အခါ ဣသရေလအမျိုးသားတို့၌ငါပေးထံ့သော
ပဋိညာဉ်တရားဟူမူကား၊ ငါထာဝရဘုရားသည်
ငါ့ပညတ်တို့ကို သူတို့ စိတ် ဝိညာဉ် ထဲ သို့ သွင်း
မည်။ သူတို့နှလုံးပေါ်မှာရေးထားမည်။ ငါသည်
သူတို့၏ ဘုရားဖြစ်မည်။ သူတို့သည်လည်း ငါ၏
၁၁ လူဖြစ်ကြလိမ့်မည်။- ထိုသူတို့က၊ ထာဝရဘုရား
ကိုသိလော့ဟု၊ အမျိုး သားချင်း၊ ညီအစ်ကိုအ
ချင်းချင်း တယောက်ကို တယောက် ဆုံးမဩဝါဒ
မပေးရကြ။ အကြောင်းမူကား၊ အငယ်ဆုံးသော
သူမှစ၍ အကြီးဆုံးသောသူတိုင်အောင် ထိုသူအ
၁၂ ပေါင်းတို့သည် ငါ့ကိုသိကြလိမ့်မည်။- ထိုအခါငါ
သည် သူတို့ အပြစ်များကို သည်းခံမည်။ သူတို့
ပြစ်မှားခြင်း၊ လွန်ကျူးခြင်း များကို မအောင်း
မေ့ဘဲနေမည်ဟု၊ ထာဝရဘုရား မိန့်တော်မူ၏။-
၁၃ ပဋိညာဉ် တရားသစ်ဟူ၍ မိန့်တော်မူသည်တွင်
ပဌမ ပဋိညာဉ်တရားကို ဟောင်းစေတော်မူ၏။
ဆွေးလျော့၍ဟောင်းသောအရာမည်သည်ကား၊
ကွယ်ပျောက်ခြင်းသို့ရောက်လုနီးသတည်း။

၉

၁ တနည်းကား၊ ပဌမပဋိညာဉ်တရားသည်ဝတ်
ပြုရာစီရင်ချက်နှင့်ငင်၊ လောကီသန့်ရှင်းရာဌာန
၂ တော်နှင့်ငင်စပ်ဆိုင်၏။- အဘယ်သို့နည်းဟူမူ
ကား၊ ဟဂျာဟု ခေါ်ဝေါ်သော ပဌမ တဲ တော်
သည်၊ ဆီမီးခုံ၊ စားပွဲ၊ ရှေ့တော်မုန့်နှင့်ပြင်ဆင်
၃ လျက်ရှိ၏။- ဒုတိယ ကုလားကာအတွင်း၌၊ ဟ
၄ ဂျာဟဂျုန်ဟု ခေါ်ဝေါ်သောတဲတော်ရှိ၏။- ထို
တဲတော် ၌ ရွှေထင်ပန်းနှင့် ရွှေမြင့်မွမ်းမံသော
ပဋိညာဉ်တရားသစ်တာရှိ၏။ ထိုသစ်တာ၌မန္န
ကိုထားသောရွှေအိုး၊ အပွင့်ပွင့်သောအာရုန်၏
လှံတံ၊ ပဋိညာဉ်တရားကိုရေးထားသောကျောက်
၅ ပြားတို့သည်ရှိကြ၏။- ထိုသစ်တာပေါ်မှာဘုန်း
ကြီးသော ခေရုဗိမ်တို့သည် အပြစ်ဖြေရာပလ္လင်
ကိုလွှမ်းမိုးလျက်ရှိကြ၏။ ထိုအရာများကို ယခု
သေချာစွာပြောစရာအကြောင်းမရှိ။
၆ ထိုသို့ ခပ်သိမ်းသော အရာ တို့သည် ပြင်ဆင်
လျက် ရှိသော အခါ၊ ယဇ်ပရောဟိတ် တို့သည်
ဝတ်ပြု၍ ပဌမတဲတော်အတွင်းသို့ အစဉ်ဝင်ရ
၇ ကြ၏။- ဒုတိယတဲတော်အတွင်းသို့ ယဇ်ပရော

ယဇ်ပုရောဟိတ် မင်းတပါးတည်းသော မိမိအပြစ်ကြောင့်
၎င်၊ လူများ အပြစ်ကြောင့်၎င် ပူဇော် သောအ
သွေးကို ဆောင်၍ တနှစ် လျှင် တခါတည်းသော
၈ ဝင်ရ၏။- ပဌမ တဲတော် မပျက်မှီ တိုင် အောင်၊
သန့်ရှင်းရာဌာနသို့ သွားသော လမ်းမပွင့် သေး
သောအကြောင်းကို ထိုအမှုအရာအားဖြင့် သန့်
ရှင်းသောဝိညာဉ်တော်သည် အရိပ်ပေးတော်မူ
၉ ၏။- ထိုတဲတော်ကား၊ ပူဇော်သကာ နှင့် ယဇ်
များကို ပူဇော်သောကာလတည်းဟူသော မျက်
မှောက်ကာလပတ်လုံး ပုံပမာဖြစ်၏။ ထို ပူဇော်
သကာနှင့် ယဇ်များတို့သည်ကိုယ်ကို ကိုယ်သိ
သောစိတ်ကို ထောက်လျှင်လည်း၊ ဝတ်ပြုသော
သူအားစုံလင်ခြင်းအကျိုးကိုမပေးနိုင်သည်ဖြစ်
၁၀ ၍၊-စားရော၊ သောက်စရာ၊ အမျိုးမျိုးသောနှစ်
စရာတည်း ဟူသော၊ ကိုယ်ခန္ဓာနှင့် ဆိုင်သော
အထုံးအဖွဲ့များနှင့်တကွ အသစ်ပြုပြင်ခြင်းကာ
လတိုင်ရုံမျှသာတည်ရကြ၏။
၁၁ ယခုမှာလူလက်ဖြင့်မလုပ်၊ ဤလောကဓာတ်
နှင့် မစပ်ဆိုင်၊ သာ၍ ကြီး မြတ် စုံထင် သော တဲ
တော်၌၊ နောက်မင်္ဂလာအကျိုးတို့၏ ယဇ်ပရော
၁၂ ဟိတ်မင်းဖြစ်သော ခရစ်တော်သည်၊- ငါတို့အ
မို့ထာဝရ ရွေးနှုတ်ခြင်းကျေးဇူးကိုခံရ၍ ဆိတ်
အသွေး၊ နွားကလေးအသွေးနှင့်မဟုတ်၊ မိမိအ
သွေး တော် နှင့် သန့် ရှင်း ရာ ဌာန ထဲ သို့ တ ခါ
၁၃ တည်း ဝင်တော်မူ၏။- အကြောင်း မူကား၊ အ
ညစ်အကြေး ရှိသော သူတို့အပေါ်၌ ဖြန်းသော
နွားအသွေး၊ ဆိတ်အသွေး၊ နွားမကလေး၏ပြာ
သည်၊ သူတို့ကိုယ်ခန္ဓာ၌ စင်ကြယ်ခြင်းကိုပြုနိုင်
၁၄ သည် မှန်လျှင်၊- ထိုမျှမက၊ အပြစ် ကင်း သော
ကိုယ်တော်ကို၊ ထာဝရဝိညာဉ် တော်အားဖြင့်၊
ဘုရားသခင်ရှေ့၌တင်လျှပူဇော်သောခရစ်တော်
၏အသွေးသည်၊ သေခြင်းနှင့် စပ်ဆိုင်သော အ
ကျင့်ကို ပယ်ရှင်း၍၊ သင်တို့သည် အသက် ရှင်
တော်မူသော ဘုရား သ ခင် ကို ဝတ် ပြု မည် အ
ကြောင်း၊ သင်တို့၌ ကိုယ်ကို ကိုယ်သိသောစိတ်
ကိုစင်ကြယ်စေခြင်း၄ါ၊ သာ၍ တတ်နိုင်တော်မူ
၁၅ သည်မဟုတ်လော။- ထိုကြောင့်၊ ပဌမပဋိညာဉ်
တရား ထက် ထက် ၌ ပြစ် မှား သော အ ပြစ် ကို
ထည်းလွှတ်စေခြင်း၄ါ၊ ခရစ်တော်သည်အသေ
ခံတော်မူသည် ဖြစ်၍၊ ခေါ်တော်မူသော သူတို့
သည် ဂတိတော်နှင့်ရှည်သောထာဝရအမွေကို
ခံရမည် အ ကြောင်း။ ထို သခင် သည် ပဋိညာဉ်
၁၆ တရားသစ်၏အာမခံဖြစ်တော်မူ၏။- အမွေခံစေ
ခြင်း၄ါအခွင့်ပေး၍စာချုပ်သည်အမှုမှာထည်း
စာချုပ်တည်လျှင် စာချုပ်သောသူသည် ဧကန်
၁၇ သေရ မည် မှန် ပြီ။- အကယ်၍ မသေလျှင်၊ ထို
၁၈ စာချုပ်သည် မတည်၊ သေမှသာ တည်၏။- ထို
ကြောင့်၊ ပဌမပဋိညာဉ်တရားကို စီရင်သောအ
၁၉ ခါ၊ အသွေးနှင့်ကင်း၍ မစီရင်၊-တရားတော်၌ပါ
သမျှ သော ပညတ် တို့ကို မောရှေသည် လူအ
ပေါင်းတို့အား ဟောပြောပြီးမှ၊ ရေနှင့်ရောနှော
သော နွား၊ ဆိတ်၏ အသွေးကို ယူ၍၊ အနီ ဆိုး
သောသိုးမွေး တပ်သော ဟုဿုပ်ပင်ညွန့်နှင့်၊
ကျမ်းစာကို၎င် လူအပေါင်းကို၎င် ဖြန်းလျက်၊-
၂၀ ဤအသွေးကား၊ သင်၌ဘုရားသခင်ဝန်ခံတော်မူ
သောပဋိညာဉ်၏ အသွေးဖြစ်သည်ဟုပြောဆို၏။-
၂၁ တဲတော်နှင့် ဝတ်ပြုသောတန်ဆာများကိုထည်း၊
၂၂ ထိုနည်းတူအသွေးနှင့်ဖြန်းရ၏။-ပညတ်တရား
အတိုင်း ခပ်သိမ်းသော အရာတို့ကို ကုန်မတတ်
အသွေးအားဖြင့်စင်ကြယ်စေတတ်၏။ အသွေးမ
၂၃ သွန်း ထောင်းဘဲ အ ပြစ် လွှတ် ခြင်း မ ရှိ။- ထို
ကြောင့်၊ ကောင်းကင်ဘုံ၌ ရှိသောအရာတို့၏ ပုံ
များကိုထိုသို့သောယဇ်ပူဇော်ခြင်းအားဖြင့်စင်
ကြယ်စေရသည်ဖြစ်၍၊ကောင်းကင်အရာတို့ကို
သာ၍ မြတ်သောယဇ်ပူဇော်ခြင်းအားဖြင့် စင်
ကြယ်စေရ၏။
၂၄ ထိုသို့နှင့်အညီ၊ မှန်သောသန့်ရှင်းရာဌာနတို့
၏ ပုံဖြစ်သော၊ လူတို့ လက်ဖြင့် လုပ်သော သန့်
ရှင်းရာဌာနထဲသို့ခရစ်တော်သည်မဝင်ဘဲ၊ငါတို့
အတွက်ကြောင့် ယခုဘုရားသခင်၏ရှေ့တော်၌
ကိုယ်ကိုပြခြင်း၄ါ၊ ကောင်းကင်ကိုယ် ထဲသို့ဝင်
၂၅ တော်မူပြီ။- သို့သော်ထည်း၊ ယဇ်ပရောဟိတ်
မင်း သည် သန့်ရှင်းရာ ဌာနထဲသို့ သူတပါး အ
သွေးနှင့် နှစ်တိုင်း အစည် ဝင်ရ သကဲ့သို့၊ ခရစ်
တော်သည်အဖန်များစွာကိုယ်ကိုပူဇော်ရသည်
၂၆ မဟုတ်။- ထိုသို့ပူဇော်ရသည်မှန်လျှင်၊ကမ္ဘာဦး
မှစ၍အဖန်များစွာအသေခံတော်မူရ၏။ ယခုမူ
ကား၊ ဤကပ်ကာလအဆုံး၌တခါတည်းကိုယ်
ကို ပူဇော် သော အား ဖြင့် အပြစ်များကို သုတ်
၂၇ သင် ပယ်ရှင်း ခြင်း၄ါ ပေါ်ထွန်းတော်မူ၏။- လူ
သည်တခါတည်းသေ၍ ထိုနောက်မှ တရားစီရင်
၂၈ တော်မူခြင်းကိုခံရသကဲ့သို့၊- ထိုနည်းတူ၊ ခရစ်
တော်သည် လူများ အပြစ်တို့ကို ခံခြင်း၄ါ တခါ
တည်း ကိုယ်ကို ပူဇော်ပြီးမှ၊ နောက်တဖန် ထို

သခင်ကိုမျှော်လင့်လျက် နေသောသူတို့ကို ကယ်
တင်ခြင်းအလို့ငှါ၊ အပြစ်နှင့်မဆိုင်ဘဲပေါ်ထွန်း
တော်မူလတံ့။

၁၀

၁ တနည်းကား၊ ပညတ်တရားသည်နောက်ဖြစ်
လတံ့သော မင်္ဂလာအကျိုးတို့၏ သေချာသောပုံ
သဏ္ဍာန်ကိုမပြ၊ အရိပ်ကိုသာ ပြသည် ဖြစ်၍၊
နှစ်စဉ်မပြတ်ပူဇော်သောယဇ်အားဖြင့် အထံ
တော်သို့ ချဉ်းကပ်သော သူတို့ကို စုံလင်ခြင်းအ
၂ ဖြစ်၌မတည်စေနိုင်ရာ။- တည်စေနိုင်လျှင်၊ဝတ်
ပြုသော သူတို့သည် တခါ တည်း နှင့် စင်ကြယ်
ခြင်းသို့ရောက်ပြီးမှ၊နောက်တဖန်သံဝေဂတရား
ရစရာ အကြောင်း အလျှင်း မရှိသည် ဖြစ်သော
ကြောင့်၊ထိုယဇ်တို့ကိုတခါတည်းသာပူဇော်၍၊
နောက်တဖန် မပူဇော်ဘဲ နေရကြမည် မဟုတ်
၃ လော။- ယခုမူကား၊ ယဇ်ပူဇော်သည်တွင် အ
၄ ပြစ်များကို နှစ်တိုင်း အောက်မေ့ခြင်းရှိ၏။- အ
ကြောင်းမူကား၊ နွား၊ ဆိတ်၏အသွေးသည် အ
ပြစ်ကိုမပယ်နိုင်ရာ။
၅ ထိုကြောင့်၊ခရစ်တော်သည်ဤလောကသို့ကြွ
လာသော အခါ၊ ဘုရားသခင်၊ ကိုယ်တော်
သည် ယဇ်နှင့် ပူဇော်သကာကို အလိုတော်မရှိ
သည်ဖြစ်၍၊အကျွန်ုပ်အဘို့ကိုယ်ခန္ဓာကိုပြင်ဆင်
၆ တော်မူပြီ။- မီးရှို့ရာယဇ်နှင့်အပြစ်ဖြေရာယဇ်
များကို အားရနှစ်သက် တော် မ မူသောအခါ၊-
၇ ကျမ်းစာလိပ်၌အကျွန်ုပ်ကိုအမှတ်ပြု၍ရေးထား
သည်နှင့်အညီ၊ အကျွန်ုပ်သည်ကိုယ်တော်၏အ
လိုကို ဆောင် အံ့သောငှါ သွား ပါမည် ဟု၊ အ
၈ ကျွန်ုပ်ဝန်ခံပါသည်ဟုလျှောက်ဆို၏။- ပညတ်
တရား အတိုင်း ပြုရသော ဝတ် ကို ရည် စောင်
လျက်ခရစ်တော်က၊ မီးရှို့ရာယဇ်၊ အပြစ်ဖြေရာ
ယဇ်အစရှိသောယဇ်များနှင့်ပူဇော်သကာများ
တို့ကို ကိုယ်တော်သည် အလိုတော်မရှိ၊ အားရ
နှစ်သက် တော်မမူဟု အထက်ကဆိုနှင့် ပြီးမှ၊-
၉ တဖန်တုံ၊ ဘိုဘုရားသခင်၊အကျွန်ုပ်သည်ကိုယ်
တော်၏အလိုကိုဆောင်အံ့သောငှါ သွားပါမည်
ဟုဆိုသည်တွင်၊ဒုတိယဝတ်ကိုတည်စေခြင်းငှါ
၁၀ ပဌမဝတ်ကို ပယ်၏။- ထိုအလိုတော်နှင့် အညီ
ယေရှုခရစ်၏ ကိုယ်တော်ကို တခါတည်း ပူဇော်
သော အားဖြင့်၊ ငါတို့ သည် စင်ကြယ် ခြင်းသို့
ရောက်ကြ၏။
၁၁ ယဇ်ပုရောဟိတ်မည်သည်ကား၊ နေ့ တိုင်း
ဝတ်ပြုလျက်၊ အပြစ်ကို မဖြေနိုင်သောယဇ်ကို
အထပ်ထပ်အဖန်ဖန် ပူဇော်လျက် ရပ်နေရ၏။-
၁၂ ထိုသခင်မူကား၊ အပြစ်ကိုဖြေခြင်းငှါ ယဇ်တခု
တည်းကိုပူဇော်ပြီးမှစ၍၊ဘုရားသခင်၏လက်ျာ
၁၃ တော်ဘက်၌ အစဉ်အမြဲထိုင်၍၊- မိမိရန်သူတို့
ကို မိမိခြေတင်ရာ မချမထားမှီတိုင်အောင် မျှော်
၁၄ လင့်လျက်နေတော်မူ၏။- အကြောင်းမူကား၊စင်
ကြယ်သော သူတို့ သည် ထာဝရ စုံလင်ခြင်း အ
ကျိုးကို ရစေခြင်း ငှါ၊ တခါ တည်း ပူ ဇော် ခြင်း
၁၅ အားဖြင့်ပြုတော်မူ၏။-ထိုသို့နှင့်အညီ၊သန့်ရှင်း
သော ဝိညာဉ်တော်သည် ငါတို့အား သက်သေ
၁၆ ပေးတော်မူသည်မှာ၊- နောင်ကာလအခါ သူတို့
၌ငါပေးသောပဋိညာဉ်တရားဟူမူကား၊ငါထာ
ဝရဘုရားသည် ပညတ်တို့ကို သူတို့နှစ်လုံးထဲ
မှာပေးသွင်းမည်။သူတို့စိတ်ဝိညာဉ်၏အပေါ်မှာ
ရေးထားမည်ဟု၊ အထက်က မိန့်တော်မူပြီးမှ၊-
၁၇ တဖန်တုံ၊ သူတို့ပြစ်မှားခြင်း၊ လွန်ကျူးခြင်း အ
မျိုးမျိုးကို ငါမအောက်မေ့ဘဲနေမည်ဟု ထားသ
၁၈ တည်း။- ထိုအပြစ်တို့ကို လွှတ်ပြီးလျှင်နောက်
တဖန် အပြစ်ဖြေသော ပူဇော်သကာကို ပြုစရာ
အကြောင်းမရှိ။
၁၉ ထိုကြောင့်၊ညီအစ်ကိုတို့၊ ယေရှု၏ကိုယ်ခန္ဓာ
၂၀ တော်တည်းဟူသော ကုလားကာအားဖြင့်၊ ထို
သခင် ပြင်ဆင်တော်မူသော အသက် ထမ်း သစ်
တွင်၊ငါတို့သည်သန့်ရှင်းရာဌာနထဲသို့၊ အသွေး
တော်ကိုအမှီပြု၍အဆီးအတားမရှိ၊ ဝင်ရသော
၂၁ အခွင့် ရှိသဖြင့်၎င်း၊- ဘုရားသခင်၏ အိမ်တော်
ကိုအုပ်စိုးသော ယဇ်ပုရောဟိတ်မင်း ရှိသဖြင့်
၂၂ ၎င်း၊- ငါတို့သည်သစ္စာနှင့် ပြည့်စုံသောသဘော
ရှိ၍၊ ဝိဉာဉ်ကိုနွာနှင့် ကင်းသော ယုံကြည် ခြင်း၌
တည်လျက်၊ စိတ်နှစ်လုံးကို သံဝေဂတရားနှင့်
လွတ်အောင် ဖြန်းခြင်း၊ ကိုယ်ကာယကိုလည်း
ကြည်သော ရေဖြင့် ဆေးကြောခြင်းရှိပြီးမှ၊ အ
၂၃ ထံတော်သို့ထိုးဝင်ချဉ်းကပ်ကြကုန်အံ့။- မျှော်
လင့်ခြင်းအကြောင်းကို ဝန်ခံ၍၊ မတိမ်းယိမ်းမ
ရွေ့လျော့ဘဲဟည်ကြည်ကြကုန်အံ့။အကြောင်း
မူကား၊ ဂတိထားတော်မူသော သူသည် သစ္စာ
၂၄ နှင့်ပြည့်စုံတော်မူ၏။-ထိုမှတပါး၊မေတ္တာစိတ်ရှိ
စေခြင်းငှါ၎င်း၊ ကောင်းသော အကျင့်ကိုကျင့်စေ
ခြင်းငှါ၎င်း၊ထိုက်တွန်းနှိုးဆော်ရသောအခွင့်ကို
ရှာ၍၊ အချင်းချင်း တယောက် ကို တယောက်
၂၅ ထောက်စာကြည့်ရှုကြကုန်အံ့။- လူအချို့ထိုင်၏



 

ထုံးစံရှိသည်အတိုင်း၊ အချင်းချင်းစည်းဝေးခြင်း
အမှုကို မရှောင် မလွှဲကြနှင့်။ အချင်းချင်း တို့ကို
တိုက်တွန်း နှိုးဆော် ကြလော့။ ကာလ အချိန်
ရောက်လုနီးသည်ကိုထောက်သဖြင့်၊ သာ၍ကြိုး
စားကြလော့။

အကြောင်းမူကား၊ သမ္မာတရားကို သိပြီးမှ
ကိုယ်အလိုသို့လိုက်၍ပြစ်မှားပြန်လျှင်၊ နောက်
တဖန်အပြစ်ဖြေသော ယဇ်ကိုပူဇော်ရာအခွင့်မ
၂၇ ရှိဘဲ၊- ဝါကျ စီရင်ခြင်းကိုခံရမည်ဟု၊ ကြောက်
မက် ဖွယ်သော မျှော်ထင့် ရသော အကြောင်း၊
ငြင်း ဆန် သော သူတို့ကို ဖျက်ဆီး၍ ဖွဲရာ အမျက်
တော် မီးထောင်ခြင်းကို ခံရသော အကြောင်းရှိ
၂၈ ၏။- မောရှေ၏တရားကိုပယ်သောသူမည်သည်
ကား၊ သက်သေခံ နှစ်ဦး သုံးဦး ရှိလျှင်၊ သနား
၂၉ ခြင်းကို မခံရဘဲ သေရ၏။- ထို မျှ မက၊ ဘုရား
သခင်၏သားတော်ကို ခြေဖြင့် ကျော်နင်းလျက်၊
မိမိကို စင်ကြယ်စေသော ပဋိညည်တရား၏ အ
သွေးကို အပြစ် တင်လျက်၊ ဆုကျေးဇူး ကို ပေး
သောဝိညည်တော်ကိုမထီမဲ့မြင်ပြုလျက်ရှိသော
သူသည်၊ အဘယ်မျှလောက်ကြီးစွာသောဝါကျ
ဖြင့် ခံထိုက်သည်ကို သင်တို့ထင်ကြသနည်း။-
၃၀ ငါသည် အပြစ်တရားကို စီရင်ပိုင်၏။ အပြစ်နှင့်
အလျောက် ငါဆပ်ပေးမည်ဟူ၍ ၎င်း၊ ထာဝရ
ဘုရားသည် မိမိလူတို့အမှုတရားစီရင်မည်ဟူ၍
၎င်း မိန့်တော်မူသောသူကို ငါတို့သည် အမှန်သိ
၃၁ ကြ၏။-အသက်ရှင်တော်မူသောဘုရားသခင်၏
လက်တော်သို့ ကျရောက်ခြင်းအမှုသည်ကြောက်
မက် ဖွယ်သောအမှုဖြစ်သတည်း။

၃၂ သင် တို့ သည် အ လင်း သို့ ရောက် ပြီး သည်
၃၃ နောက်၊ လူများရှေ့မှာကဲ့ရဲ့ညှဉ်းဆဲခြင်းကိုခံရ
သဖြင့်၎င်း၊ ထိုသို့ ခံရသော သူ တို့ နှင့် ဆက် ဆံ
သော အပေါင်း အဖော် ဖြစ်သဖြင့် ၎င်း၊ ကြီး စွာ
သောဆင်းရဲဒုက္ခဝေဒနာများကို ဆိုင်ပြိုင်တိုက်
လှန်ခြင်းနှင့်တွေ့ကြုံသောအထက်ကာလအချိန်
၃၄ ကိုအောင်းမေ့ကြလော့။- ထိုအခါသင်တို့သည်
အကျဉ်းခံရသောသူတို့အတွက်ကြောင့်ကြင်နာ
သောစိတ်ရှိရသည်သာမက၊ ကိုယ်ပစ္စည်းဥစ္စာ
များကို သူ တပါး လုယူ ဖျက်ဆီး သော် လည်း၊
ကိုယ်သုံးစရာဘို့ ကောင်းကင်ဘုံ၌ သာ၍ မြတ်
သောအမြဲတည် သော ဘဏ္ဍာရှိသည်ကိုသိ၍၊
လုယူ ဖျက်ဆီးခြင်းကို ဝမ်းမြောက် သော စိတ်
၃၅ နှင့်ဝန်ခံကြ၏။-ထိုကြောင့်၊ကြီးစွာသောအကျိုး
နှင့် ရှည်သောသင်တို့၏ ရဲရင့်ခြင်းစိတ်ကို မစွန့်
၃၆ ကြနှင့်။- ဘုရားသခင်၏ အလိုတော်ကို ဆောင်
ပြီးမှ၊ ဂတိ တော် အတိုင်း အကျိုးကို ရမည်အ
၃၇ ကြောင်း သည်းခံခြင်း၊ စိတ်ရှိရမည်။- အဘယ်
ကြောင့် နည်းဟူမူကား၊ ကြွလာလတံ့သော သူ
သည် မဆိုင်း မလင့် ဘဲ၊ မကြာ မမြင့် မှီ ရောက်
၃၈ တော်မူလိမ့်မည်။- ဖြောင့်မတ်သောသူသည် ယုံ
ကြည်ခြင်း အား၊ ဖြင့် အသက် ရှင် လိမ့်မည်။ သို့
သော်လည်း၊ နှေးလျော့လျှင်၊ ငါစိတ်ဝိညည်သည်
ထို သူကို အားရ နှစ် သက် ခြင်း မရှိ ဟု၊ ဘုရား
၃၉ သခင် အမိန့် တော်ရှိ၏။- ငါ တို့မူကား၊ ပျက်စီး
ခြင်းသို့ ရောက်အံ့သော၄ါ နှေးလျော့သော သူမ
ဟုတ်။ စိတ်ဝိညဉ်သည်ကယ်တင်ခြင်းသို့ရောက်
အံ့သော၄ါယုံကြည်သောသူဖြစ်ကြ၏။

၁၁

၁ ယုံကြည်ခြင်းသည် မျှော်ထင့်သော အရာတို့
ကို မျှော်မှောက် ပြုခြင်း ဖြစ်၏။ မမြင် သေးသော
အရာတို့ကို သိမှတ်စွဲလမ်းခြင်း အကြောင်းဖြစ်
၂ ၏။- ထိုပါရမီကြောင့်၊ ရှေးလူဟောင်းတို့သည်
၃ ချီးမွမ်း တော် မူခြင်း ကို ခံရကြ၏။- ယခု မြင်ရ
သော အရာတို့သည်၊ အရင်ထင်ရှားသောအရာ
ထဲက မဖြစ်ဘဲ၊ လောကဓာတ် တို့သည် ဘုရား
သခင်၏အမိန့်တော်ကြောင့်သာ တည်သည်ကို၊
၄ ငါတို့သည်ယုံကြည်ခြင်းအားဖြင့်သိကြ၏။-အာ
ဗေလသည်၊ ကာဣန ပူဇော်သော ယဇ် ထက်
သာ၍ မြတ်သောယဇ်ကို၊ ယုံကြည်ခြင်း အား
ဖြင့်ဘုရားသခင်အား ပူဇော်၏။ ထိုသို့သောယဇ်
ကိုပူဇော်၍၊ မိမိဖြောင့်မတ်သည်ဟုသက်သေခံ
တော်မူခြင်းကို ရလေ၏။ အဘယ်သို့နည်းဟူမူ
ကား၊ သူလှူသောအလှူကို ဘုရား သခင် သည်
ထက်ခံတော်မူ၏။ သို့ဖြစ်၍၊ အာဗေလသည်သေ
လွန်သော်လည်း ယခုပင် တရားဟောသေး၏။-
၅ ဧနောက်သည် ယုံကြည် ခြင်းအားဖြင့် သေခြင်း
နှင့်လွတ်၍ အဝပြောင်းရ၏။ ဘုရားသခင်သည်
သူကို အဝပြောင်းစေတော်မူသောကြောင့်၊ သူ
သည် နောက်တဖန် မပေါ်မရှိ။ သူသည် အဝမ
ပြောင်းမှီဘုရားသခင်၏စိတ်တော်နှင့် တွေ့သော
၆ သူဖြစ်သည်ဟုသက်သေခံခြင်းကိုရလေ၏။ ယုံ
ကြည်ခြင်း မရှိလျှင်၊ ဘုရား သခင်၏ စိတ်တော်
နှင့်မတွေ့နိုင်။ အကြောင်းမူကား၊ ဘုရားသခင်
အထံတော်သို့ ချဉ်းကပ်သော သူသည်၊ ဘုရား
သခင်ရှိတော်မူသည်ကို၎င်း၊ ကိုယ်တော်ကို ရှာ

သောသူအားအကျိုးပေးတော်မူသည်ကိုငှင်ယုံ
၇ ကြည်ရမည်။-နောသည်မမြင်သေးသောအမှု
အရာတို့ကိုဖော်ပြသောဗျာဒိတ်တော်ကိုခံရပြီး
မှ၊ ယုံကြည်ခြင်းအားဖြင့် ကြောက်ရွံ့သောစိတ်
ရှိ၍၊ မိမိအိမ်သူအိမ်သားတို့ကို ကယ်တင်ခြင်း
ငှါ သင်္ဘောကို တည်လေ၏။ ထို ယုံ ကြည် ခြင်း
အားဖြင့် လောကီသား တို့ကို အပြစ်တင်၍ ယုံ
ကြည် ခြင်း နှင့် ရှည် သော ဖြောင့် မတ် ခြင်း ကို
လည်းအမွေခံရ၏။
၈ အာဗြဟံသည် အမွေခံရလတံ့သော ပြည်သို့
ထွက်သွား မည်အကြောင်း၊ ဘုရားသခင် ခေါ်
တော်မူသောအခါ၊ သူသည် အဘယ် အရပ်သို့
သွားသည်ကိုကိုယ်တိုင်မသိဘဲလျက်၊ ယုံကြည်
ခြင်းအားဖြင့် နားထောင်၍ ထွက်သွားလေ၏။-
၉ သူတပါးပိုင်သောပြည်၌ဧည့်သည်နေသကဲ့သို့၊
ဂတိတော်နှင့်စပ်ဆိုင်သောပြည်၌ယုံကြည်ခြင်း
အားဖြင့်ဧည့်သည်ဖြစ်၍နေ၏။ထိုဂတိတော်ကို
အမွေခံရသောအဖော်အဖက်တည်းဟူသောဣဇာ
ဂက်၊ ယာကုပ် တို့ နှင့် အတူ တဲ၌ နေ လေ၏။-
၁၀ အကြောင်းမူကား၊ဘုရားသခင်တည်ထောင်ပြု
စုတော်မူသော၊ ခိုင်ခံ့ မြဲမြံသောမြို့ကို မျှော်လင့်
၁၁ သတည်း။- သူ၏ ခင်ပွန်းစာရာသည်လည်း အ
ရွယ်လွန်သောအခါ၊ ပဋိသန္ဓေ ယူနိုင်သော အ
ခွင့်တန်ခိုးကိုယုံကြည်ခြင်းအားဖြင့် ခံရလေ၏။
အကြောင်းမူကား၊ ဂတိ ထား တော် မူသော သူ
၁၂ သည်သစ္စာရှိသည်ဟုစိတ်စွဲထမ်းခြင်းရှိ၏။-သို့
ဖြစ်၍၊ ထိုအမှုအရာ၌ လူသေနှင့်တူသော သူတ
ယောက်သည်၊အရေအတွက်အားဖြင့် ကောင်း
ကင်ကြယ်ကဲ့သို့ငှင်၊ သမုဒ္ဒရာ ကမ်းနားး၌ မရေ
တွက်နိုင်သော သဲလုံးကဲ့သို့ငှင် များ စွာသောသူ
၁၃ တို့၏အဖဖြစ်သတည်း။-ယခုဆိုခဲ့ပြီးသောသူအ
ပေါင်းတို့သည်၊ ဂတိတော်နှင့် စပ်ဆိုင်သောအ
ကျိုးကျေးဇူးကို မခံရဘဲ၊ အဝေးက မျှော် မြင်
လျက်၊ စိတ်နှစ်လုံးနှင့်ဖက်ယမ်းလျက်၊ မိမိတို့
သည် မြေကြီးပေါ်မှာ တကျွန်းသူတနိုင်ငံသား၊
ဧည့်သည် အာဂန္တု ဖြစ်သည်ကို ထင်ရှား စွာ
ဝန်ခံလျက်၊ ယုံကြည်ခြင်းစိတ်နှင့် သေလွန်ကြ
၁၄ ၏။-ထိုသို့ဝန်ခံသောသူတို့သည်မိမိတို့အဖပြည်
ကိုရှာကြသည်ဟု၊ အတည့်အလင်းပြောဆိုကြ
၁၅ ၏။- ထိုသူတို့သည်အထက်ကထွက်သွားသော
ပြည်ကို အောင်းမေ့သည် မှန်လျှင်၊ ထိုပြည် သို့
၁၆ ပြန်ရသောအခွင့်ရှိကြ၏။- ထိုပြည်ကိုမအောင်း
မေ့ဘဲ၊ ကောင်းကင်ပြည်တည်းဟူသော၊ သာ၍
မြတ်သော ပြည်ကို တောင့် တခြင်း ရှိကြ၏။ ထို
ကြောင့်၊ ဘုရားသခင်သည်သူတို့၏ ဘုရားဟူ၍
ခေါ်ဝေါ် ခြင်းကိုရှက်တော်မမူ။ သူတို့နေစရာအဖို့
မြို့ကိုတည်ထောင်တော်မူပြီ။
၁၇ အာဗြဟံသည်စုံစမ်းတော်မူခြင်းကိုခံရသော
အခါ၊ယုံကြည်ခြင်းအားဖြင့်ဣဇာက်ကိုပူဇော်
၁၈ ၏။- ဣဇာက်၌သာ သင်၏အမျိုးတည်လိမ့်မည်
ဟူသော ဗျာဒိတ်တော်မှစ၍ဂတိတော်များကိုခံ
ရသောသူသည်၊ မိမိ၌တယောက်တည်းသောထို
၁၉ သားကိုပူဇော်၏။- ထိုသို့ပူဇော်သောအခါ သေ
ခြင်းမှ ထမြောက်စေခြင်းငှါ၊ ဘုရားသခင် တတ်
နိုင်တော် မူသည်ကို သူသည် အောင်းမေ့၏။ ထို
သားကို ပုံစကားအားဖြင့် သေခြင်း ထဲက ရ၏။-
၂၀ ဣဇာက် သည်လည်း၊ ယုံကြည် ခြင်း အား ဖြင့်
အနာဂတ် အရာတို့ကိုအမှတ်ပြု၍ ယာကုပ် နှင့်
၂၁ ဧသောကို ကောင်းကြီးပေး၏။- ယာကုပ်သည်
လည်း၊သေမှိန်နီးသောအခါ၊ယုံကြည်ခြင်းအား
ဖြင့် ယောသပ် ၏ သား နှစ် ယောက် ကို ကောင်း
ကြီးပေး၍၊တောင်ဝေးထိပ်အပေါ်မှာကိုးကွယ်
၂၂ လေ၏။- ယောသပ်သည် သေဆဲရှိသောအခါ၊
ယုံကြည်ခြင်း အားဖြင့် ဣသရေလ အမျိုး သား
တို့၏ ထွက်မြောက်ခြင်းအရာကို ပြ၍၊ မိမိအရိုး
တို့၏အကြောင်းကိုမှာထားလေ၏။
၂၃ မောရှေကို ဖွားမြင်ပြီးမှ အဆင်း လှသောသူ
ငယ် ဖြစ် သည် ကို မိ ဘ တို့ သည် မြင်လျှင်၊ ယုံ
ကြည် ခြင်း အားဖြင့် ရှင်ဘုရင် အမိန့် တော်ကိုမ
ကြောက်ဘဲ သုံးလပတ်လုံး သူကိုဝှက်ထားလေ
၂၄ ၏။- မောရှေသည်အသက်အရွယ်ကြီးသောအ
၂၅ ခါ အပြစ်ရှိသောကာမဂုဏ်ကို ခဏ ခံစားခြင်း
၂၆ ထက်၊ ဘုရားသခင်၏လူတို့နှင့်အတူညှဉ်းဆဲခံ
ရခြင်းကိုသာ၍အလိုရှိသဖြင့်ငှင်၊ အဲဂုတ္တုပြည်
၏စည်းစိမ် ထက် ခရစ်တော် ကြောင့် ကဲ့ရဲ့ခြင်း
ဒုက္ခ သည်သာ၍ မြတ်သော စည်းစိမ် ဖြစ်သည်
ကိုစိတ်ထင်သဖြင့်ငှင်၊ ယုံကြည် ခြင်းစိတ် ရှိ၍
ဖာရောဘုရင်သမီး၏ သားဟူ၍ ခေါ်ဝေါ်ခြင်းအ
ခွင့်ကိုပယ်၏။ အကြောင်းမူကား၊ နောက်ရလ
တံ့သောအကျိုးကို ထောက်စာ မျှော်လင့်လျက်
၂၇ နေ၏။-ယုံကြည်ခြင်းအားဖြင့်ရှင်ဘုရင်အမျက်
ကိုမကြောက်ဘဲ၊ အဲဂုတ္တုပြည်ကို စွန့်သွား၏။
အကြောင်း မူ ကား၊ မျက် မြင် မ ရ သော ဘုရား
သခင်ကိုမြင်ရသကဲ့သို့တည်ကြည်ခြင်းရှိ၏။-

၂၈ သားဦးများကို ဖျက်ဆီးသောသူသည် ဣသရေ
လလူတို့ကိုမထိမခတ်စေခြင်းငှါ၊ယုံကြည်ခြင်း
အားဖြင့်ပသခါပွဲကိုငင်၊အသွေးဖြန်းသွတ်ခြင်း
၂၉ ကိုငင်စောင့်လေ၏။– ဣသရေလ လူတို့ သည်
ကုန်းကြောင်းသွားသကဲ့သို့၊ယုံကြည်ခြင်းအား
ဖြင့်ဧဒုံပင်လယ်အလယ်၌ရှောက်သွားရကြ၏။
ထိုသူတို့နည်းတူ အဲဂုတ္တုလူတို့သည် သွားမည်
၃၀ အားထုတ်သောအခါနှစ်မြုပ်ကြ၏။– ယေရိခေါ
မြို့ကို ခုနစ်ရက် ပတ်လုံးဝိုင်း၍ လှည့်ပြီးမှ၊ ယုံ
၃၁ ကြည်ခြင်း အားဖြင့် မြို့ရိုးသည်ပြိုလဲ၏။– ပြည်
တန်ဆာ ရာခပ်သည် သူလျှိုတို့ကို အဆွေဖွဲ့၍
ထားခံသောကြောင့်၊ မယုံကြည်သောသူတို့နှင့်
အတူမပျက်စီးဘဲ၊ ယုံကြည်ခြင်းအားဖြင့် ချမ်း
သာရ၏။
၃၂ ထိုမှတပါး၊ အဘယ်သို့ ပြောစရာရှိသေးသ
နည်း။ ဂိဒေါင်၊ ဗာရက်၊ ရှံဆုံ၊ ယေဖသာ၊ ဒါဝိဒ်၊
ရှမွေလမှစ၍ ပရောဖက်တို့ အကြောင်းများကို
၃၃ ပြော၍မကုန်နိုင်။– ထိုသူတို့သည်ယုံကြည်ခြင်း
အားဖြင့်အခြားသောတိုင်းနိုင်ငံကိုအောင်ခြင်း၊
တရားသဖြင့် စီရင်ခြင်း၊ ဂတိတော်ကို ဝင်စား
၃၄ ခြင်း၊ ခြင်္သေ့နှုတ်ကို ပိတ်ခြင်း၊– မီးအရှိန်ကို
ငြိမ်းစေခြင်း၊ထားလက်နက်ဘေးနှင့်ကင်းလွတ်
ခြင်း၊အနာမှထမြောက်၍ကျန်းမာခြင်း၊စစ်တိုက်
သောအခါခွန်အားနှင့်ပြည့်စုံခြင်း၊တပါးအမျိုး
သားတို့၏တပ်များကိုဖျက်ဆီးခြင်း၊အမှုများကို
၃၅ ပြုကြ၏။– မိန်းမတို့ သည် လည်း၊ သေ ခြင်းမှ ထ
မြောက်သောမိမိတို့ သားကို ရပြန်ကြ၏။ အချို့
သောသူတို့သည်၊ သာ၍ မြတ်သောထမြောက်
ခြင်းသို့ရောက်လိုသောငှါ၊လွှတ်ခြင်းကိုမခံမယူ
၃၆ ဘဲပြင်းစွာသောညှဉ်းဆဲခြင်းကိုခံကြ၏။– အချို့
သောသူတို့သည်ကဲ့ရဲ့ရိုက်ပုတ်ခြင်း၊ချည်နှောင်
ခြင်းကိုခံ၍ထောင်ထဲမှာနေရသဖြင့်၊စုံစမ်းခြင်း
၃၇ ကိုခံရကြ၏။– ကျောက်ခဲနှင့်ပစ်ခြင်း၊လွှနှင့်အ
ပိုင်းပိုင်းတိုက်ဖြတ်ခြင်း၊ စုံစမ်းနှောင့်ရှက်ခြင်း၊
ထား လက်နက်နှင့် ကွပ်မျက်ခြင်းကို ခံရကြ၏။
အလွန်ဆင်းရဲ ယျက်ညှဉ်းဆဲနှိပ်စက်ခြင်းကိုခံ
လျက်၊ သိုးရေ၊ ဆိတ်ရေကိုဝတ်၍လှည့်လည်ရ
၃၈ ကြ၏။– ဤလောကသည် ထိုသူတို့ နှင့် မထိုက်မ
တန်။ သူတို့သည်တောကြိုတောင်ကြား၊ဥမင်မြေ
တွင်းထဲမှာအပြောင်းပြောင်းအလည်လည်နေရ
၃၉ ကြ၏။– ထိုသူ အပေါင်းတို့ သည် ယုံကြည်ခြင်း
အား ဖြင့် ချီးမွမ်းခြင်း သို့ ရောက် သော်လည်း၊
ဂတိတော်အတိုင်း အကျိုးကျေးဇူးကိုမခံရကြ။–
၄၀ အဘယ်ကြောင့်နည်းဟူမူကား၊ ထိုသူတို့သည်
ငါတို့ မပါဘဲ စုံလင်ခြင်းသို့ မ ရောက် ရ မည် အ
ကြောင်း၊ ဘုရားသခင်သည် ငါတို့အဖို့ အထိုက်
သာ၍မြတ်သောကျေးဇူးကိုကြံစည်တော်မူ၏။

၁၂

၁ ထိုကြောင့်၊ ဤမျှသောက်များစွာသောသက်
သေ အပေါင်း တို့ သည် ငါတို့ကို ဝိုင်းရံလျက်ရှိ
ကြသည် ဖြစ်၍၊ ငါတို့သည် ခပ်သိမ်းသောဝန်
တို့ကိုငင်၊ နှောင့်ရှက်တတ်သောဒုစရိုက်ကိုငင်
ပယ်ရှား၍၊ ငါတို့မျက်မှောက်၌ထားသောပန်း
တုံးတိုင်သို့ရောက်ခြင်းငှါ၊ အားမလျှော့ဘဲပြေး
၂ ကြကုန်အံ့။– ယုံကြည်ခြင်းကို အစအဦးစီရင်၍
စုံ ထင် စေ တော် မူ သော သ ခင် ယေ ရှုကို ရှုမျှော်
ထောက်ရှု ကြကုန်အံ့။ ထိုသခင်သည် မိမိရှေ့၌
ထားသော ဝမ်းမြောက်ခြင်းအကြောင်းကြောင့်၊
ရှက်ကြောက်သော အရာကို မမှတ်ဘဲ လက်ဝါး
ကပ်တိုင်၌ ခံပြီးမှ၊ ဘုရားသခင် ၏ ပလ္လင်တော်
၃ လက်ျာဘက်၌ထိုင်နေတော်မူ၏။–အပြစ်ရှိသော
သူတို့လက်တွင်၊ ထိုမျှလောက်ကြီးစွာသောဆီး
တားနှောင့်ရှက်ခြင်းကို ခံတော်မူသောသခင်ကို
ထောက်ရှုဆင်ခြင်သောအားဖြင့်၊ အားလျှော့
စိတ်ပျက်ခြင်းနှင့် ကင်းလွတ်အံ့သောငှါကြိုးစား
ကြလော့။
၄ သင်တို့သည်ဒုစရိုက်အပြစ်ကိုဆိုင်ပြိုင်တိုက်
ဖျက်၍ ကိုယ်အသွေး ထွက်သည်တိုင်အောင်မခံ
၅ ရကြသေး။–ထိုမှတပါး၊ ငါသား၊ ထာဝရဘုရား
ဆုံးမတော်မူခြင်းကိုမမှတ်ဘဲမနေနှင့်။ သင်၏အ
ပြစ်ကို စစ်ဆေး တော်မူ သော အခါ စိတ်မပျက်
၆ နှင့်။–ထာဝရဘုရားသည်ချစ်တော်မူသောသူကို
ဆုံးမတော်မူတတ်၏။ လက်ခံတော် မူသမျှ သော
သားတို့ကို ဒဏ်ခတ်တော်မူတတ်၏ဟု၊ သူငယ်
တို့ကိုဆိုသကဲ့သို့၊သင်တို့ကိုပြောဆိုသောဩဝါ
၇ ဒစကားကိုမေ့လျော့ကြသလော။– သင်တို့သည်
ဆုံးမတော်မူခြင်းကို ခံလျှင်၊ သားတို့ကို ပြုသကဲ့
သို့၊ ဘုရားသခင်သည် သင်တို့ကို ပြုတော်မူ၏။
အကြောင်းမူကား၊အဘမဆုံးမသောသားတစုံတ
၈ ယောက်ရှိသလော။– သား အပေါင်းတို့သည် ခံ
တတ်သော ဆုံးမခြင်းကို သင်တို့သည် မခံဘဲ နေ
လျှင်၊ သားရင်းမဟုတ်၊ မင်းဦးမင်းလွှင်ရသော
၉ သားဖြစ်ကြ၏။– တနည်းကား၊ ကိုယ်ကာယနှင့်
စပ်ဆိုင်သော အဘတို့ လက်ဖြင့် ငါတို့သည် ဆုံးမ

ခြင်းကိုခံရသောအခါ၊သူတို့ကိုရိုသေကြ၏။ ထို
မျှမက၊ စိတ်ဝိညာဉ်တို့၏အဖအလိုသို့လိုက်၍၊
၁၀ အသက် ချမ်းသာရကြမည် မဟုတ်သလော။- အ
ကြောင်းမူကား၊ ထိုအဖ တို့သည် မိမိ အလိုသို့
လိုက်၍တခဏသာဆုံးမပေးကြ၏။ကိုယ်တော်
မူကား၊ မိမိ သန့်ရှင်းခြင်း ပါရမီ တော်ကို ငါတို့
သည်ဆက်ဆံစေခြင်းငှါ၊ငါတို့အကျိုးကိုထောက်
၁၁ ၍သာ ဆုံးမပေးတော်မူ၏။- ဆုံးမခြင်းမည်သည်
ကား၊ ခံရစဉ် အခါ ဝမ်းမြောက် စရာ မ ထင်၊
ဝမ်းနည်းစရာထင်တတ်၏။သို့သော်လည်း၊ဆုံးမ
ခြင်းကိုခံရသောသူတို့သည်၊ နောက်မှငြိမ်သက်
ခြင်းနှင့် စပ်ဆိုင်သော ဖြောင့်မတ်ခြင်း အကျိုး
ကိုခံရကြ၏။
၁၂ ထိုကြောင့်၊ တွဲလွဲနေသောလက်တို့နှင့်အားမ
၁၃ ရှိသောဒူးတို့ကို ခိုင်ခံ့စေကြလော့။- ခြေမစွမ်း
သော သူတို့သည် အဆစ်မပြုတ် သည်သာမက၊
ချမ်းသာ ရစေခြင်းငှါ၊ သင်တို့သွားဖို့ရာ ဖြောင့်
၁၄ သောလမ်းတို့ကိုပြုင်ဆင်ကြလော့။-လူအပေါင်း
တို့နှင့်အသင့်အတင့်နေ၍ ငြိမ်သက်ခြင်းကိုဎင်၊
သန့် ရှင်း ခြင်း ပါရမီ ကိုဎင် မှီအောင် လိုက်ကြ
လော့။သန့်ရှင်းခြင်းပါရမီမရှိလျှင်၊ အဘယ်သူ
၁၅ မျှထာဝရဘုရားကိုမဖူးမမြင်ရ။- သင်တို့တွင်တ
စုံတယောက်မျှ ဘုရားသခင်၏ကျေးဇူးတော်ကို
မရဘဲ မနေ စေခြင်း ငှါဎင်၊ ခါးစွာသော ပင်မြစ်
ပေါက်၍ သင်တို့ နှောင့်ရှက်သဖြင့်၊ လူအများ
၁၆ တို့သည်အပြစ်နှင့်ညစ်ညူးစေခြင်းငှါဎင်၊- မ
တရားသော မေထုန်၌ မှီဝဲသောသူ မရှိစေခြင်းငှါ
ဎင်၊ တနပ်စာအဘိုးနှင့်သားဦးအရာကိုရောင်း
သောဧသောကဲ့သို့ ဘုရားတရားကို မရိုမသေပြု
သောသူ မရှိစေခြင်းငှါဎင် သတိနှင့်ကြည့်ရှုကြ
၁၇ လော့။- သင်တို့သိသည်အတိုင်း၊ ဧသောသည်
နောက်မှ ကောင်းကြီးမင်္ဂလာကို အမွေခံခြင်းငှါ
အလိုရှိသောအခါ၊ငြင်းပယ်ခြင်းကိုခံရ၏။မျက်
ရည် ကျ၍ ကောင်း ကြီး မင်္ဂလာကို အလွန် ရှာ
သော်လည်း၊ မိမိ အဖ၏ စိတ်ပြောင်းလဲခြင်းအ
ခွင့်ကိုမတွေ့မရ။
၁၈ ထိုမှတပါး၊ သင်တို့သည် လက်နှင့် တွေ့နိုင်
သောတောင်သို့ဎင်၊လောင်သောမီးသို့ဎင်၊ မည်း
သောတိမ်တိုက်၊ မှောင်မိုက်၊ မိုဃ်းသက်မုန်
၁၉ တိုင်းသို့ဎင်၊- တံပိုးမှုတ်ခြင်းအသံသို့ဎင်၊ နှုတ်
ကပတ်တော်အသံ သို့ဎင် ရောက်ကြသည်မဟုတ်။
ထိုအသံတော်ကို ကြားသော သူတို့သည်၊ ထပ်
၍ မိန့် တော် မမူ မည် အ ကြောင်း တောင်း ပန်
ကြ၏။- အဘယ် ကြောင့်နည်း ဟူမူ ကား၊ ထိ
ရိစ္ဆာန် သော် လည်း ထို တောင် ကို ထိ မိ လျှင်၊
ကျောက်ခဲနှင့်ပြစ်၍သေစေဟုပညတ်တော်မူသံ
၂၀ ကိုလူတို့သည် နားမခံ နိုင်ကြ။- ထိုသို့ ထင်ရှား
သောအရာသည် အလွန်ကြောက်မက်ဘွယ်ဖြစ်
၍၊မောရှေက၊ငါသည်ကြောက်၍တုန်လှုပ်ခြင်း
၂၁ ရှိသည်ဟုဆို၏။-သင်တို့သည်ဇိအုန်တောင်သို့
ဎင်၊ အသက်ရှင်တော်မူသော ဘုရားသခင်၏မြို့
တော်တည်းဟူသော ကောင်းကင် ယေရုရှလင်
မြို့သို့ဎင်၊အတိုင်းမသိများစွာသောကောင်းကင်
၂၂ တမန်တို့၏စည်းဝေးခြင်းသို့ဎင်၊- ကောင်းကင်
စာရင်း၌ဝင်သောသားဦးတို့၏အသင်းတော်သို့
ဎင်၊ ခပ်သိမ်းသောသူတို့ကိုတရားစီရင်တော်မူ
သောဘုရားသခင်အထံတော်သို့ဎင်၊ စုံလင်ခြင်း
သို့ ရောက်သော သူ တော် ကောင်း တို့ ၏ စိတ် ဝိ
၂၃ ညာဉ်တို့ထံသို့ဎင်၊- ပဋိညာဉ်တရားသစ်၏အာ
မခံတည်း ဟူသော ယေရှုထံတော် သို့ဎင်၊ အာ
ဗေလ၏အသွေးပြောဆိုသောအရာထက်သာ၍
မြတ်သောအရာကို ပြောဆိုသောဖြန်းဆွတ်ခြင်း
၏အသွေး၊ထံသို့ဎင်ရောက်ကြ၏။
၂၄ သင် တို့ သည် မိန့် တော်မူ သော သူ၏ စကား
တော်ကို မငြင်း မပယ်မည် အကြောင်း သတိပြု
ကြလော့။ မြေကြီးပေါ်မှာ ဗျာဒိတ်တော်ကို ဆင့်
ဆိုသော သူ ၏ စကား ကို ငြင်း ပယ် သော သူတို့
သည်အပြစ်မလွတ်ရသည်မှန်လျှင်၊ ထိုမျှမက၊
ကောင်းကင်ဘုံက မိန့်တော်မူသော သူ၏ စကား
ကို ငါတို့ သည် နားမထောင်ဘဲ နေလျှင်၊ သာ၍
ကြီးစွာသော အပြစ်နှင့် အဘယ်သို့ ကင်းလွတ်
၂၅ နိုင်မည်နည်း။- အထက်ကဗျာဒိတ်တော်အသံ
သည်မြေကြီးကို လှုပ်သည် ဖြစ်၍၊ ယခုတဖန်၊
ငါသည်မြေကြီးနှင့် ကောင်းကင်ကိုလှုပ်ဦးမည်
၂၆ ဟုဂတိတော်ရှိ၏။- တဖန်ဟူသောစကား၏ အ
မိပ္ပာယ်ကား၊ မလှုပ်သောအရာတို့ကို တည်စေ
ခြင်းငှါ၊ လှုပ်သောအရာတို့ကိုလောကီအရာကဲ့
၂၇ သို့ပယ်ဖျက်လိမ့်မည်ဟု ဆိုလိုသတည်း။- ထို
ကြောင့်၊ ငါတို့သည် မလှုပ်နိုင်သော နိုင်ငံကိုရ
သည်ဖြစ်၍၊ ခန့်ညားကြောက်ရွံ့သော သဘော
နှင့် ဘုရားသခင်ကို လျောက်ပတ်စွာ ဝတ်ပြုနိုင်
မည်အကြောင်း၊ ကျေးဇူးတော် ကို စွဲ လမ်းကြ
၂၈ ကုန်အံ့။- ငါတို့ဘုရားသခင်သည်လောင်သော
မီးဖြစ်တော်မူ၏။

## ၁၃

၁ ညီအစ်ကိုချင်းချစ်ခြင်းမေတ္တာ၌တည်ကြလော့။
ဧည့်သည်ဝတ်ပြုခြင်းအမှုကိုမမေ့မလျော့ကြ
၂ နှင့်။- အချို့သောသူတို့သည်ဧည့်သည်ဝတ်ကို
ပြုသည်တွင်၊ ကောင်းကင်တမန်တို့ကိုအမှတ်
၃ တမဲ့ဧည့်ခံကြပြီ။- အကျဉ်းခံရသောသူတို့နှင့်
အတူကိုယ်ခံရသကဲ့သို့မှတ်၍၊သူတို့ကိုအောင်း
မေ့ကြလော့။သင်တို့သည်ကိုယ်ခန္ဓာနှင့်မကင်း
မလွတ်သောသူဖြစ်၍၊ ညှဉ်းဆဲခံရသောသူတို့
၄ ကိုအောင်းမေ့ကြလော့။- ခပ်သိမ်းသောသူတို့
၌မင်္ဂလာဆောင်ခြင်းအမှုနှင့်၊ သစ္စာသံဝါသပြု
ခြင်းအမှုသည်အသရေရှိစေလော့။ မတရား
သောမေထုန်ကိုပြုသောသူနှင့်၊ သူမယားကိုပြစ်
မှားသောသူကိုဘုရားသခင်စစ်ကြောစီရင်တော်
၅ မူလိမ့်မည်။- သင်တို့၏ကျင့်ကြံပြုမူခြင်းသည်
ငွေကိုတပ်မက်ခြင်းနှင့်ကင်းလွတ်၍၊ ကိုယ်၌
ရှိသောဥစ္စာနှင့်ရောင့်ရဲခြင်းရှိကြလော့။ အ
ကြောင်းမူကား၊ ငါသည်သင့်ကိုမစွန့်၊ သင့်ကို
၆ အလျှင်းပြစ်၍မထားဟုဂတိတော်ရှိ၏။- ထို
ကြောင့်၊ ထာဝရဘုရားသည် ငါ့ကိုမစတော်မူ
သည်ဖြစ်၍၊ လူသည်ငါ့၌ပြုနိုင်သမျှကို ငါမ
ကြောက်ဟု၊ ငါတို့သည်ရဲရင့်သောစိတ်နှင့်
ပြောဆိုရသောအခွင့်ရှိကြ၏။
၇ ဘုရားသခင်၏နှုတ်ကပတ်တရားတော်ကို
သင်တို့အားဟောပြော၍၊ သင်တို့ကိုအုပ်သော
သူတို့ကိုအောင်းမေ့ကြလော့။ သူတို့သည်အ
ထယ်သို့ကျင့်ကြံပြုမူ၍စုတေသည်ကိုစေ့စေ့
ဆင်ခြင်လျက်၊သူတို့၏ယုံကြည်ခြင်းကိုမှီးအောင်
၈ လိုက်ကြလော့။- ယေရှုခရစ်သည်မနေ့၊ယနေ့၊
နောင်ကာလ အစဉ်အမြဲမပြောင်းမလဲနေတော်
၉ မူ၏။- အထူးထူးအပြားပြားသောအယူဝါဒ
သစ်ကိုလိုက်၍မလောက်ပြန်ကြနှင့်။ အစာများ
အားဖြင့် စိတ်နိုင်ခံ့မြဲမြံခြင်းမရှိဘဲ၊ ကျေးဇူး
တော်အားဖြင့် နိုင်ခံ့မြဲမြံလျှင် အကျိုးရှိ၏။ အ
စာများကိုအမှုထားသောသူတို့သည် အကျိုး
၁၀ ကိုရကြပြီမဟုတ်။- တဲတော်၌ ဝတ်ပြုသောသူ
တို့စားရသောအခွင့်မရှိသောယဇ်ပလ္လင်သည်
၁၁ ငါတို့၌ရှိ၏။- အကြောင်းမူကား၊ ယဇ်ပုရော
ဟိတ်မင်းသည် အပြစ်ဖြေသောယဇ်ကောင်
၏အသွေးကိုသန့်ရှင်းရာဌာနထဲသို့သွင်းပြီးမှ၊
ယဇ်အသေကောင်တို့ကိုတပ်ပြင်၌မီးရှို့ရ၏။-
၁၂ ထိုသို့နှင့်အညီ၊ ယေရှုသည် မိမိအသွေးအား
ဖြင့်လူများကိုစင်ကြယ်စေခြင်းငှါ၊ မြို့တံခါး
၁၃ ပြင်၌အသေခံတော်မူ၏။- သို့ဖြစ်၍၊ငါတို့သည်
ထိုသခင်နှင့်အတူကဲ့ရဲ့ခြင်းကိုခံ၍၊ တပ်ပြင်၊အ
၁၄ ထံတော်သို့ထွက်သွားကြကုန်အံ့။- အကြောင်း
မူကား၊ ငါတို့သည်ဤအဝ၌အမြဲတည်သောမြို့
မရှိ။ နောက်ဖြစ်လတံ့သောမြို့ကိုရှာကြ၏။-
၁၅ ထိုကြောင့်၊ ငါတို့သည် ဘုရားသခင်၏ကျေး
ဇူးတော်ကိုဝန်ခံလျက်၊ နှုတ်ခမ်းအသီးတည်း
ဟူသော ချီးမွမ်းခြင်းယဇ်ကို၊ သခင်ယေရှု
ခရစ်အားဖြင့် ဘုရားသခင်ရှေ့တော်၌ အစဉ်
၁၆ ပူဇော်ကြကုန်အံ့။- ကျေးဇူးပြုခြင်း၊ ဥစ္စာဝေ
မျှခြင်းအမှုတို့ကို မမေ့မလျော့ကြနှင့်။ ထိုသို့
သောယဇ်ကိုဘုရားသခင်သည်အားရနှစ်သက်
တော်မူ၏။
၁၇ သင်တို့ကိုအုပ်သောသူတို့၏စကားကိုနား
ထောင်၍ နှိမ့်ချလျက်နေကြလော့။ သူတို့သည်
ကိုယ်တိုင်စစ်ကြောခြင်းကိုခံရသောသူကဲ့သို့၊
သင်တို့စိတ်ဝိညာဉ်၏အကျိုးအလို့ငှါစောင့်နေ
ကြ၏။သင်တို့အကျိုးကိုမဖြစ်စေတတ်သောဝမ်း
နည်းခြင်းမရှိ၊ဝမ်းမြောက်ခြင်းရှိ၍၊သူတို့သည်
စစ်ကြောခြင်းကိုခံရမည်အကြောင်း သတိပြု
၁၈ လျက်နေကြလော့။- ငါတို့အဖို့ဆုတောင်းကြ
လော့။ ငါတို့သည်ကိုယ်ကိုကိုယ်သိသောစိတ်
ကြည်လင်လျက်၊ အရာရာတို့၌ကောင်းမွန်စွာ
ကျင့်နေခြင်းငှါအလိုရှိသောသူဖြစ်သည်ဟု၊
၁၉ စိတ်ချလမ်းခြင်းရှိကြ၏။- ငါသည်သင်တို့ရှိရာ
သို့အလျင်အမြန်ပြန်ရသောအခွင့်ရှိစေခြင်းငှါ၊
ငါတို့အဖို့ဆုတောင်းမည်အကြောင်း ငါသည်
သာ၍နှိုးဆော်တောင်းပန်၏။
၂၀ ထာဝရပငြိမ်သက်ခြင်းတရား၏အသွေးတော်အား
ဖြင့်၊ သိုးများကိုထိန်းသောသိုးထိန်းကြီးဖြစ်
သော၊ ငါတို့သခင်ယေရှုကိုသေခြင်းမှနှုတ်
ဆောင်တော်မူသော၊ ငြိမ်သက်ခြင်း၏အရှင်
၂၁ ဘုရားသခင်သည်၊- မိမိနှစ်သက်တော်မူသော
အမှုအရာကိုယေရှုခရစ်အားဖြင့် သင်တို့၌ပြု
တော်မူ၍၊ သင်တို့သည်အလိုတော်သို့လိုက်
မည်အကြောင်း၊ကောင်းသောအကျင့်အမျိုးမျိုး
၌သင်တို့ကိုပြုပြင်တော်မူပါစေသော။ ထိုသခင်
ယေရှုခရစ်သည် ကမ္ဘာအဆက်ဆက်ဘုန်းကြီး
တော်မူစေသတည်း။ အာမင်။
၂၂ ညီအစ်ကိုတို့၊ငါသည်အကျဉ်းအားဖြင့်ရေး
ထား၍ကြားလိုက်သောဤဆုံးမခြင်း၊ သြဝါဒ

စကားကိုသည်းခံမည်အကြောင်း၊ ငါသည်သင်
၂၃ တို့ကိုနှိုးဆော်တောင်းပန်၏။- ငါတို့ညီတိမောသေ
သေကို အခြားသို့ လွှတ်လိုက်သည်အရာကို သိ
မှတ်ကြလော့။ သူသည် မကြာ မမြင့်မှီ ရောက်
လျှင်၊ ငါသည်သူနှင့်အတူလာ၍ သင်တို့ကိုတွေ့
၂၄ မြင်လိမ့်မည်။- သင်တို့ကိုအုပ်သောသူအပေါင်း
တို့ကိုငှင် သန့်ရှင်း သူအပေါင်းတို့ကိုငှင်၊ နှုတ်
ဆက်ကြလော့။ ဣတလိ ပြည်သူ ပြည်သား တို့
၂၅ သည်သင် တို့ ကို နှုတ် ဆက်ကြ၏။- သင်တို့အ
ပေါင်း၌ ကျေးဇူးတော်ရှိစေသတည်း။ အာမင်။

ရှင်ပေါလုစီရင်ရေးထားသောဟေဗြဲဩဝါဒစာပြီး၏။

---

# ရှင်ယာကုပ်ဩဝါဒစာ။

## THE EPISTLE OF JAMES.

၁

၁ ဘုရားသခင်နှင့်အရှင်ယေရှုခရစ်၏ကျွန်ငါယာ
ကုပ်သည်၊ အရပ်ရပ်တို့၌ကွဲပြားသောတဆယ်
နှစ်ပါးသောအမျိုးတို့ကို မေတ္တာနှင့်ကြားလိုက်
၂ ပါ၏။- ငညီအစ်ကိုတို့၊သင်တို့၏ယုံကြည်ခြင်းကို
၃ စစ်ကြောစုံစမ်းခြင်းအရာသည်သည်းခံခြင်းကို
ပွားစေတတ်သည်ဟုသိမှတ်လျက်၊အထူးထူးအ
ပြားပြားစုံစမ်းနှောင့်ရှက်ခြင်းနှင့်တွေ့ကြုံသော
အခါ၊ ဝမ်းမြောက် စရာ အကြောင်း သက်သက်
၄ ဖြစ်သည် ဟု မှတ် ကြ လော့။- သင်တို့သည် အ
လျှင်း မရှိ တဲ့ဘဲ စေ့စပ် စုံထင် မည် အကြောင်း၊
သည်းခံခြင်းမိတ်သည်အကုန်အစင်ပြုပွင်ပါစေ။
၅ သင်တို့တွင် တစုံ တယောက် သော သူ သည်
ပညာကိုလိုလျှင်၊ ကဲ့ရဲ့ပြစ်တင်ခြင်းကိုပြုတော်
မမူဘဲ၊ ခပ်သိမ်းသောသူတို့အား စေတနာမိတ်
နှင့် ပေး သ နား တော် မူ သော ဘုရား သခင် ကို
၆ တောင်းစေ။ တောင်း လျှင် ရ လိမ့်မည်။- သို့ရာ
တွင်၊ တွေးတောခြင်းမရှိဘဲ ယုံကြည်သော မိတ်
နှင့် တောင်း ရမည်။ တွေးတောခြင်း ရှိသောသူ
သည်ကား၊လေခတ်၍လှုပ်ရှားတတ်သောလှိုင်း
၇ တံပိုးနှင့်တူ၏။- ထိုသို့သောသူသည်စိတ်နှစ်ခုရှိ
၈ သောသူ၊ ပြုထေသမျှတို့၌ မတည်ကြည်သော
သူဖြစ်၍၊ ထာဝရဘုရား၏လက်တော်မှတစုံတ
ခုကိုရမည်ဟုမထင်မမှတ်စေနှင့်။
၉ အောက်လျှိုးနှိမ့်ချသော ညီအစ်ကိုသည် မိမိ
ချီးမြှောက် ခြင်း အရာ၌ ဝါကြွား ဝမ်း မြောက်
၁၀ စေ။- ငွေရတတ်သော ညီအစ်ကိုသည် မိမိနှိမ့်ချ
ဆင်းရဲ ခြင်း အရာ၌ ဝါကြွား ဝမ်းမြောက်စေ။
အကြောင်း၊ မူ ကား၊ သူ သည် မြက် ပွင့် ကဲ့ သို့
၁၁ ဖောက်ပြန်ခြင်းသဘောရှိ၏။- နေသည်ပူသော
အရှိန်နှင့် ထွက်သောအခါ၊ မြက်ပင်သည် သွေ့
ခြောက်ခြင်းသို့ရောက်၍အပွင့်လည်းကြွေ၏တတ်
၏၊တင့်တယ်သောအသွေးအဆင်းလည်းပျောက်
ပျက် တတ် ၏။ ထိုနည်း တူ၊ ငွေရတတ်သော သူ
သည် မိမိ အမှုအရာတို့၌ ညှိုးနွမ်း ပျောက်ပျက်
ခြင်းသို့ရောက်တတ်၏။
၁၂ စုံစမ်း နှောင့် ရှက် ခြင်း ကို သည်း ခံ သော သူ
သည်မင်္ဂလာရှိ၏။ အကြောင်းမူကား၊စစ်ကြော
စုံစမ်းခြင်းကိုခံပြီးမှသခင်ဘုရားကိုချစ်သောသူ
တို့အား ဂတိထားတော်မူသော အသက် သရဖူ
၁၃ ကိုရလိမ့်မည်။- အပြစ်သွေးဆောင်ခြင်းကို ခံရ
သောသူမည်သည်ကား၊ဘုရားသခင်သည်ငါကို
သွေးဆောင် တော် မူသည်ဟု မပြော စေနှင့်။ မ
ကောင်းသောအရာသည် ဘုရားသခင်ကိုမသွေး
ဆောင်နိုင်ရာ၊ကိုယ်တော်သည်လည်းအဘယ်
၁၄ သူကိုမျှအပြစ်သို့သွေးဆောင်တော်မမူ။-မိမိထယ်
မက်သော မိတ် ဆွဲ ငင် ခြား သောင်း ခြင်း ကို ခံ
သောသူမည်သည်ကား၊အပြစ်သွေးဆောင်ခြင်း
၁၅ သို့ရောက်တတ်၏။- တပ်မက်သောမိတ်သည်ပဋိ
သန္ဓေယူ၍ဒုစရိုက်ကိုဖွားတတ်၏၊ ဒုစရိုက်သည်
၁၆ လည်း၊ ပြည့်စုံလျှင်သေခြင်းကို ဖွားတတ်၏။- ငါ
၁၇ ချစ်သောညီအစ်ကိုတို့အထွဲမယူကြနှင့်။-ကောင်း

မြတ် စုံလင်သော ဆုကျေးဇူးရှိသမျှတို့သည် အ
ထင်းတို့၏အဖထံတော်ကသက်ရောက်သည်ဖြစ်
၍၊ အထက်အရပ်မှလာကြ၏။ ထိုအဖသည်ရွေ
လျောခြင်း၊ ထိမ်းခြင်းမရှိ၊ပြောင်းလဲခြင်းအရိပ်
၁၈ နှင့်ကင်းလွတ်တော်မူ၏။-နိမ္မိတ္တသတ္တဝါတို့တွင်
ငါတို့သည်အဦးသီးသောအသီးကဲ့သို့ဖြစ်စေခြင်း
ငှါ၊ သစ္စာတရားစကား အားဖြင့် မိမိအလိုတော်
အတိုင်း ငါတို့ကို ဖြစ်ဖွားစေတော်မူ၏။
၁၉ သို့ဖြစ်၍၊ငါချစ်သောညီအစ်ကိုတို့၊ခပ်သိမ်း
သောသူ တို့သည် နားကြား ခြင်းငှါ လျှင်မြန်ကြ
စေ။စကားပြောခြင်းငှါ၎င်း၊အမျက်ထွက်ခြင်းငှါ
၂၀ ၎င်းနှေးကြစေ။- လူ၏ဒေါသအမျက်သည်ဘုရား
သခင်၏ဖြောင့်မတ်ခြင်းတရားကို မပြုစုတတ်။-
၂၁ ထိုကြောင့်၊ခပ်သိမ်းသောညစ်ညူးခြင်း၊မနာလို
သောစိတ်ထွန်ကျူးခြင်းကိုပယ်ရှား၍၊ သင်တို့
စိတ်ဝိညာဉ်ကိုကယ်တင်နိုင်သော၊ အထဲ၌စိုက်
ပျိုးသော နှုတ် ကပတ် တရားကို နူးညံ့ သိမ်မွေ့
၂၂ သောစိတ်နှင့် ခံယူ ကြလော့။- ကိုယ်ကိုကိုယ်
လှည့်ဖြား၍၊ နှုတ်ကပတ်တရားကို နာရုံမျှသာ
ပြုသောသူ မဟုတ်၊ တရားကို ကျင့်သောသူ ဖြစ်
၂၃ ကြလော့။- တရားကို မကျင့်ဘဲ နာ ရုံ မျှ သာ ပြု
သောသူမည်သည်ကား၊မှန်၌မိမိပကတိမျက်နှာ
၂၄ ကိုကြည့်သောသူနှင့်တူ၏။- အကြောင်းမူကား၊
ကိုယ်ကို ကိုယ် ကြည့် ပြီး မှ၊ အခြားသို့ သွား၍
မိမိအဆင်းသဏ္ဍာန်ကို ချက်ချင်းမေ့လျော့တတ်
၂၅ ၏။-လွတ်ခြင်းနှင့်စပ်ဆိုင်၍စုံလင်သောတရား၌
စေ့စေ့ကြည့်ရှု၍ တည်ကြည် သော သူမူ ကား၊
တရားနာ၍ မေ့လျော့ သော သူမဟုတ်၊ အကျင့်
ကျင့်သောသူဖြစ်သဖြင့်၊ မိမိကျင့်သော အကျင့်
၌မင်္ဂလာရှိသောသူဖြစ်၏။
၂၆ သင်တို့ တွင် အကြင် သူ သည် သီလဆောက်
တည် ဟန် ပြု သော် လည်း၊ မိမိ နှုတ်ကို မချုပ်
တည်း၊မိမိနှစ်လုံးကိုလှည့်ဖြား၏၊ ထိုသူ၏သီလ
၂၇ သည် အချည်း နှီး သက် သက် ဖြစ်၏။- ခမည်း
တော်ဘုရားသခင်ရှေ့၌ စင်ကြယ်သန့်ရှင်းသော
သီလဟူမူကား၊ မိဘမရှိသော သူ ငယ်တို့ နှင့်
မုဆိုးမတို့သည်ဆင်းရဲခံရသောအခါ၊ သူတို့ကို
ကြည့်ရှု ပြု စုခြင်း၊ ကိုယ်တိုင် ထည်း၊ လောကီ
အညစ် အကြေးနှင့် ကင်းစင် အံ့သောငှါ စောင့်
ရှောက်ခြင်းပေတည်း။

၁ ညီအစ်ကိုတို့၊ ဘုန်းကြီးတော်မူသော ငါတို့
သခင် ယေရှုခရစ်ကို ယုံကြည်ခြင်း အမှုမှာ၊ လူ
၂ မျက်နှာကို ထောက်ခြင်း မရှိကြနှင့်။- ရွှေလက်
စွပ်နှင့်တင့်တယ်သောအဝတ်ကိုဝတ်ဆင်သော
သူ၊ ညစ်သောအဝတ်ကိုဝတ်၍ဆင်းရဲသောသူ
နှစ်ဦးသည် သင်တို့၏တရားဇရပ်ထဲသို့ဝင်သော
၃ အခါ၊ တင့်တယ်သောအဝတ်ကိုဝတ်ဆင်သော
သူကိုကြည့်၍၊ ကောင်းမွန်သောဤအရပ်မှာထိုင်
ပါဟူ၍၎င်း၊ဆင်းရဲသောသူကို၊ ဟိုမှာနေလော့။
သို့ မဟုတ်၊ ဤအရပ်မှာ ငါ့ခြေတင်ခုံ အောက် ၌
ထိုင်လော့ ဟူ၍၎င်း သင်တို့သည် ပြောဆိုလျှင်၊-
၄ တဖက်၌ငဲ့ကွက်သောစိတ်ရှိ၍မကောင်းသောအ
ကြံအစည်နှင့်စီရင်သောသူဖြစ်ကြသည်မဟုတ်
၅ လော။- ငါ ချစ်သော ညီအစ်ကို တို့၊ နား ထောင်
ကြလော့။ လောကတွင်ဆင်းရဲသောသူတို့သည်
ယုံကြည်ခြင်း ရတနာကို ရတတ် စေခြင်းငှါ၎င်း
ဘုရားသခင်ကို ချစ်သောသူတို့အားပေးမည်ဟု
ဝန်ခံတော် မူသော နိုင်ငံတော်၏ အမွေခံ ဖြစ်စေ
ခြင်းငှါ၎င်း၊ထိုသူတို့ကိုရွေးကောက်တော်မူသည်
၆ မဟုတ်လော။- သင်တို့သည်ဆင်းရဲသောသူကို
မထီမဲ့မြင်ပြုကြသည်တကား။ ငွေရတတ်သော
သူတို့သည်သင်တို့ကိုညှဉ်းဆဲနှိပ်စက်ကြသည်
မဟုတ်လော။တရားပလ္လင်ရှေ့သို့ဆွဲငင်ကြသည်
၇ မဟုတ်လော။-သင်တို့ကိုသမုတ်သောနာမတော်
မြတ်ကိုသူတို့သည် ကဲ့ရဲ့ကြသည်မဟုတ်လော။
၈ ကိုယ်နှင့် စပ်ဆိုင်သော သူကို ကိုယ်နှင့်အမျှ
ချစ်လော့ဟု၊ကျမ်းစာ၌ပါသောရှုပညတ်တော်
ကို သင်တို့ သည် စောင့် ရှောက်လျှင်၊ ကောင်း
၉ သောအကျင့်ကို ကျင့်ရာသို့ ရောက်ကြ၏။- သို့မ
ဟုတ်၊ လူမျက်နှာကိုထောက်လျှင်၊ဒုစရိုက်ကို
ပြုသောသူဖြစ်ကြ၏။ တရားကို လွန်ကျူးသော
သူဟု၊ပညတ်တော်အားဖြင့်ထင်ရှားစွာဖြစ်ကြ
၁၀ ၏။- အဘယ်သို့နည်းဟူမူကား၊ ပညတ်တရား
အလုံးစုံကို စောင့် ရှောက် သည်တွင် တစုံတခု၌
မှားမိလျှင်၊ ပညတ်တရားအလုံးစုံကို လွန်ကျူး
၁၁ သောအပြစ်ရှိ၏။- သူ့မယားကိုမပြစ်မှားနှင့်ဟု
ပညတ်တော်မူသောသူက၊လူ့အသက်ကိုမသတ်
နှင့်ဟု ပညတ် တော်မူသေး၏။ သို့ဖြစ်၍၊ သင်
သည် သူ့မယားကိုမပြစ်မှားဘဲ နေသော်လည်း၊
လူ့အသက်ကိုသတ်လျှင်၊ပညတ်တရားကိုလွန်
၁၂ ကျူးသောသူဖြစ်၏။- လွတ်ခြင်းတရားအတိုင်း
စီရင်ခြင်းကိုခံရလတ့ံသောသူကဲ့သို့၊စကားပြော
၁၃ ခြင်း၊ အမှုပြုခြင်းကို စီရင်ကြလော့။- ကရုဏာ

မရှိသောသူသည်၊ ကရုဏာကိုမရဘဲ၊ တရားစီ
ရင်ခြင်းကိုခံရလိမ့်မည်။ ကရုဏာသည်တရားစီ
ရင်ခြင်းကိုအောင်၍ဝါကြွားတတ်၏။
၁၄ ညီအစ်ကိုတို့၊ တစုံတယောက်သောသူက၊
ငါသည်ယုံကြည်ခြင်းရှိ၏ဟုပြောလျက်၊ အကျင့်
ကိုမကျင့်ဘဲနေလျှင်၊ အဘယ်အကျိုးရှိသနည်း။
ထိုယုံကြည်ခြင်းသည် ထိုသူကို ကယ်တင်နိုင်
၁၅ သလော။- ညီအစ်ကို နှမတို့သည် အဝတ်အ
ချည်းစည်းရှိ၍၊ နေ့တိုင်း စားရသော အစာမရှိ
၁၆ သောအခါ၊- သင်တို့တွင်တစုံတယောက်သော
သူက၊ ငြိမ်ဝပ်စွာသွားကြလော့၊ နွေးကြလော့၊
ဝကြလော့ဟုပြောလျက်၊ သူတို့ကိုယ်နှင့်တော်
လျော်သော အသုံးအဆောင်ကို မပေးဘဲနေ
၁၇ လျှင်၊ အဘယ်အကျိုးရှိသနည်း။- ထိုနည်းတူ၊
အကျင့်နှင့်ကင်းသော ယုံကြည်ခြင်းသည်တပါး
၁၈ တည်းရှိသောကြောင့် အသေဖြစ်၏။- တနည်း
ကား၊ သင်သည်ယုံကြည်ခြင်းရှိ၏။ ငါသည်အ
ကျင့်ရှိ၏။ သို့ဖြစ်၍၊ သင်သည် အကျင့်မရှိဘဲ၊
သင်၏ယုံကြည်ခြင်းကို ပြလော့။ ငါမူကား၊ အ
ကျင့်အားဖြင့် ငါ၏ ယုံကြည်ခြင်းကို ပြမည်ဟု
၁၉ ပြောစရာရှိ၏။- ဘုရားသခင်တဆူတည်းရှိသည်
ဟု၊ သင်သည်ယုံ၏။ ကောင်းပေ၏။ နတ်ဆိုးတို့
သည်ယုံ၍ကြောက်ရွံ့တုန်လှုပ်ကြ၏။
၂၀ လှုပ်ပေါ်သောလူ၊ အကျင့်နှင့် ကင်းသောယုံ
ကြည်ခြင်းသည် အသေ ဖြစ်သည်ကို သိချင်သ
၂၁ လော။- ငါတို့အဘ အာဗြဟံသည်၊ မိမိသားဣ
ဇာက်ကိုယဇ်ပလ္လင်ပေါ်မှာတင်လှူပူဇော်သော
အခါ၊ အကျင့်အားဖြင့်ဖြောင့်မတ်ရာသို့ရောက်
၂၂ သည်မဟုတ်သလော။- ယုံကြည်ခြင်းသည်အကျင့်
နှင့်အတူပြုပြင်၍၊ အကျင့်အားဖြင့်စုံလင်သည်
၂၃ ကိုသိမြင်ရ၏။- အာဗြဟံသည်ဘုရားသခင်ကို
ယုံကြည်သည် ဖြစ်၍၊ သူ၏ ယုံကြည် ခြင်းကို
ဖြောင့်မတ်ခြင်း ကဲ့သို့ မှတ် တော် မူ၏ ဟူသော
ကျမ်းစကားပြည့်စုံလေ၏။ အာဗြဟံသည်လည်း၊
ဘုရားသခင်၏ အဆွေဟူ၍ခေါ်ဝေါ်ခြင်းကိုခံရ
၂၄ ၏။- လူသည်ယုံကြည်ခြင်းအားဖြင့်သာဖြောင့်
မတ်ရာသို့ရောက်သည်မဟုတ်၊ အကျင့်အားဖြင့်
၂၅ ရောက်သည်ကိုသင်တို့သိမြင်ရကြ၏။- ထိုနည်း
တူ၊ ပြည်တန်ဆာရာခပ်သည်၊ တမန်တို့ကိုလက်
ခံပြီးမှ အခြားသောလမ်းဖြင့်လွှတ်လိုက်၍၊ အ
ကျင့်အားဖြင့် ဖြောင့်မတ် ရာသို့ ရောက်သည်မ
၂၆ ဟုတ်လော။- ဝိညာဉ်နှင့်ကင်းသောကိုယ်သည်

အသေဖြစ်သကဲ့သို့၊ အကျင့်နှင့် ကင်းသောယုံ
ကြည်ခြင်းသည်အသေဖြစ်၏။

၃

၁ ညီအစ်ကိုတို့၊ ငါတို့သည်သာ၍ကြီးစွာသော
သောစီရင်ခြင်းကိုခံရမည်ဟု၊ သင်တို့
၂ သိ၍အများသောဆရာမဖြစ်ကြနှင့်။- ငါတို့ရှိသ
မျှသည် အများသော အားဖြင့် မှားတတ်ကြ၏။
စကားအားဖြင့် မှားခြင်းမရှိသော သူမည်သည်
ကား၊ စုံလင်သောသူဖြစ်၏။ ငါကိုယ်တကိုယ်
၃ လုံးကိုချုပ်တည်းနိုင်သော သူဖြစ်၏။- မြင်းကို
နိုင်ခြင်းငှါပစပ်ကိုဇက်ခွံ့တတ်၏။ သို့ပြု၍၊ မြင်း
၄ ကိုယ်တကိုယ်လုံးကိုလှည့်စေတတ်၏။- ထို့မှတ
ပါး၊ အလွန်ကြီးသောသင်္ဘောသည်ပြင်းစွာသော
လေတုန်နှင့်လွင့်သွားသော်လည်း၊ တက်မကိုင်
အလိုရှိသည့်အတိုင်း၊ ငယ်သော တက် မဖြင့်
၅ လှည့်တတ်၏။- ထိုနည်းတူ၊ လျှာသည် ငယ်သော
အင်္ဂါဖြစ်သော်လည်း၊ အလွန်ဝါကြွားတတ်၏။
အ ဘယ် မျှ လောက် များ စွာ သော ထင်း ကို အ
နည်းငယ်သောမီးသည်ညှိနိုင်သည်ကိုကြည့်ပါ
၆ လော့။- လျှာသည်မီးဖြစ်၏။ ဒုစရိုက်၏လောက
ဓာတ်လည်းဖြစ်၏။ ထိုသို့နှင့်အညီ၊ လျှာသည်ငါ
တို့၏ အင်္ဂါတို့တွင် တည်၍ တကိုယ်လုံးကိုညစ်
ညူးစေ၏။ ဇာတိစက်ကိုလည်း ညှိတတ်၏။ မိမိ
၇ သည်လည်းငရဲမီးညှိခြင်းကိုခံလျက်ရှိ၏။ သား
ရဲမျိုး၊ ငှက်မျိုး၊ တွားတတ်သောတိရစ္ဆာန်မျိုး၊
ငါးမျိုးတို့ကို လူမျိုးသည် အောင်တတ်သည် အ
၈ တိုင်းအောင်နှဲပြီ။- လျှာကိုကား၊ အဘယ်လူမျှ
မအောင်နိုင်၊ မဆုံးမနိုင်သော အဆိုးအညစ်ဖြစ်
၏၊ သေစေတတ်သောအဆိပ်အတောက်နှင့်ပြည့်
၉ စုံ၏။- ငါတို့သည် လျှာဖြင့် ခမည်းတော်ဘုရား
သခင်ကို ကောင်းကြီးပေးတတ်ကြ၏။ ဘုရား
သခင်၏ပုံသဏ္ဍာန်တော်နှင့်အညီဖန်ဆင်းသော
၁၀ လူတို့ကို လျှာဖြင့်ကျိန်ဆဲတတ်ကြ၏။- နှုတ်ထ
ပါးတည်းအထဲက၊ ထောမနာ ပြုခြင်းနှင့်
ကျိန်ဆဲခြင်း ထွက်တတ် ပါသည်တကား။ ညီ
၁၁ အစ်ကိုတို့၊ ထို သို့ မဖြစ် ကောင်းရာ။- စမ်းရေ
ပေါက်တပေါက်တည်း အထဲက ချိုသောရေနှင့်
၁၂ ခါးသောရေထွက်တတ်သလော။- ညီအစ်ကို
တို့၊ သင်္ဘောသဖန်းပင်သည် သံလွင်သီးကိုသီး
နိုင်သလော။ စပျစ်ပင်သည် သင်္ဘောသဖန်းသီး
ကိုသီးနိုင်သလော။ ထိုအတူ၊ ငန်သောရေသည်
ချိုသောရေကိုမဖြစ်စေနိုင်။

၁၃ သင်တို့တွင် အတတ်အလိမ္မာနှင့်ပြည့်စုံသော
ပညာရှိ တစုံတယောက် ရှိလျှင်၊ ထိုသူသည်
ပညာ၏ နူးညံ့သိမ်မွေ့ခြင်းနှင့်တကွ၊ ကောင်း
မြတ်သောကျင့်ကြံပြုမူခြင်းအားဖြင့် မိမိအမှုတို့
၁၄ ကိုပြပါစေ။- သို့မဟုတ်၊ သင်တို့စိတ်ထဲမှာ ခါး
စွာသော ဂုဏ်ပြိုင်ခြင်း၊ ရန်တွေ့ခြင်း ရှိလျှင်၊
သမ္မာတရားကို မုသာဖြင့်ဆန့်ကျင်၍ မဝါကြွားကြ
၁၅ နှင့်။- ထိုသို့သော ပညာသည်၊ အထက်မှသက်
ရောက်သောပညာမဟုတ်၊ မြေကြီးပညာ၊ ဇာတိ
၁၆ ပကတိပညာ၊ နတ်ဆိုးပညာဖြစ်၏။- အကြောင်း
မူကား၊ ဂုဏ်ပြိုင်ခြင်း၊ ရန်တွေ့ခြင်းရှိလျှင်၊ မငြိမ်
မဝပ် ရုန်းရင်းခတ်ခြင်း၊ ဆိုးညစ်စွာ ပြုမူခြင်း
၁၇ အမျိုးမျိုး ရှိတတ်၏။- အထက်မှ သက်ရောက်
သောပညာမူကား၊ ရှေ့ဦးစွာစင်ကြယ်၏။ ထိုမှ
တပါး၊ အသင့်အတင့်နေတတ်၏။ ပြည့်ညွှင်း
သော သဘောရှိ၏။ သွေးဆောင်လွယ်၏။ ကရု
ဏာနှင့်၎င်း၊ ကောင်းကျိုးနှင့်၎င်းပြည့်စုံ၏။ လျစ်
လျူသော စိတ်ရှိ၏။ လှည့်ဖြားခြင်းနှင့် ကင်းစင်
၁၈ ၏။- အသင့်အတင့်နေခြင်း၌ ပြုစုတတ်သောသူ
တို့သည် ငြိမ်ဝပ်ခြင်း၊ တရား၏ မျိုးစေ့ကို ငြိမ်
သက်စွာကြဲတတ်ကြ၏။

၄

၁ သင်တို့တွင်စစ်တိုက်ခြင်း၊ ရန်တွေ့ခြင်းသည်
အဘယ်အကြောင်းကြောင့်ဖြစ်သနည်း။ သင်တို့
အင်္ဂါများ၌ စစ်ပြိုင်သော ကာမသာယာ ကာမစိတ်
၂ ကြောင့်ဖြစ်သည်မဟုတ်လော။- သင်တို့သည်တပ်
မက်၍မရကြ။ လူအသက်ကိုသတ်၍၎င်း၊ အလွန်
လိုချင်သောလောဘ စိတ်ရှိ၍၎င်း၊ အလိုမပြည့်စုံ
နိုင်ကြ။ ရန်တွေ့ခြင်း၊ စစ်တိုက်ခြင်းကိုလည်း ပြု၍
မရကြ။ အကြောင်းမူကား၊ ဆုမတောင်းဘဲနေကြ
၃ ၏။- ဆုတောင်းလျှင်လည်း ကာမဂုဏ်စားစရာ
တို့ရှိစေခြင်းငှါ၊ အလွဲတောင်းသောကြောင့်မရ
၄ ကြ။- မတရားသောမေထုန်၌မှီဝဲသောယောကျ်ား
မိန်းမတို့၊ လောကီမိတ်သဟာယသည် ဘုရားသခင်
နှင့်ဆန့်ကျင်ဘက်ဖြစ်သည်ကို မသိကြသလော။
ဤသို့လောကနှင့် မိတ်သဟာယ ဖွဲ့လိုသော သူသည်
၅ ဘုရားသခင်၏ ရန်သူ ဖြစ်၏။- ကျမ်းစာချက်အ
ချည်းနှီးသက်သက် ဖြစ်သည်ဟူ၍၎င်း၊ ငါတို့၌
တည်းနေသောဝိညာဉ်တော်သည် ငြူစူစေချင်သော
၆ သဘောရှိသည်ဟူ၍၎င်း ထင်ကြသလော။- ထို
ဝိညာဉ်တော်သည် သာ၍များသောကျေးဇူးကို
ပြုတော်မူ၏။ ထိုသို့နှင့်အညီ ကျမ်းစာလာသည်
ကား၊ ထောင်လွှားစော်ကားသောသူတို့ကိုဘုရား
သခင် ဆီးတားတော်မူ၏။ စိတ်နှိမ့်ချသော သူ
တို့အား ကျေးဇူးပြုတော်မူ၏ဟု လာသတည်း။
၇ ထိုကြောင့်၊ ဘုရားသခင်၏အလိုတော်သို့လိုက်
ကြလော့။ မာရ်နတ်ကိုဆီးတားကြလော့။ သို့ပြု
လျှင်၊ သူသည်သင်တို့ထံက ပြေးသွားလိမ့်မည်။-
၈ ဘုရားသခင်၌ ချဉ်းကပ်ကြလော့။ သို့ပြုလျှင်၊
သင်တို့နှင့် ချဉ်းကပ်တော်မူလိမ့်မည်။ အပြစ်ရှိသော
သူတို့၊ သင်တို့လက်ကို စင်ကြယ်စေကြလော့။
စိတ်နှစ်ခုရှိသောသူတို့၊ သင်တို့စိတ်နှလုံးကို
၉ သန့်ရှင်းစေကြလော့။- ဆင်းရဲငြိုငြင်ခြင်း၊ စိတ်မ
သာညည်းတွားခြင်း၊ ငိုကြွေးမြည်တမ်းခြင်းရှိ
ကြလော့။ သင်တို့ရယ်ခြင်းကို စိတ်မသာညည်း
တွားခြင်းဖြစ်စေကြလော့။ ဝမ်းမြောက်ခြင်းကို
၁၀ လည်း ဝမ်းနည်းခြင်းဖြစ်စေကြလော့။- ဘုရား
သခင်ရှေ့တော်၌ ကိုယ်ကိုကိုယ်နှိမ့်ချကြလော့။
သို့ပြုလျှင်၊ သင်တို့ကို ချီးမြှောက်တော်မူလိမ့်
၁၁ မည်။- ညီအစ်ကိုတို့၊ အချင်းချင်းတယောက်ကို
တယောက် ကဲ့ရဲ့ခြင်းကို မပြုကြနှင့်။ ညီအစ်ကို
ချင်းကိုကဲ့ရဲ့၍၊ သူ့အပြစ်ရှိသည်ဟုစီရင်သော
သူသည်တရားကိုကဲ့ရဲ့၏။ တရား၌အပြစ်ရှိသည်
ဟု စီရင်၏။ ထိုသို့ပြုလျှင်၊ သင်သည် တရားကို
ကျင့်သော သူ မဟုတ်။ တရားကို စစ်ကြောစီရင်
၁၂ သောသူဖြစ်၏။- ပညတ်တရားကိုထားပိုင်သော
သူ၊ စစ်ကြောစီရင်ပိုင်သော သူတပါးတည်း ရှိ
တော်မူ၏။ ထိုသူသည်ကယ်တင်ခြင်းငှါ၎င်း၊ ဖျက်
ဆီးခြင်းငှါ၎င်း တတ်နိုင်တော်မူ၏။ သူတပါးကို
စစ်ကြော စီရင်သော သင်သည် ကား အဘယ်
သူနည်း။
၁၃ ယနေ့နက်ဖန်၌မည်သောမြို့သို့ သွား၍ကုန်
သွယ်၍၊ ထိုမြို့၌တနှစ်ပတ်လုံးနေ၍ကုန်သွယ်သဖြင့်
အမြတ်ရအောင် ပြုကြကုန်အံ့ဟု ဆိုတတ်သော
၁၄ သူတို့၊ နားထောင်ကြလော့။- နက်ဖန်နေ့၌ အ
ဘယ်သို့ဖြစ်မည်ကို သင်တို့မသိကြ။ သင်တို့အ
သက်သည် အဘယ်သို့သောအရာဖြစ်သနည်း။
ခဏထင်ရှား၍မှ ကွယ်ပျောက်တတ်သော အ
၁၅ ငွေ့ဖြစ်၏။- ထာဝရဘုရားသည်အလိုတော်
ရှိ၍၊ ငါတို့သည်လည်း အသက်ရှင်လျှင်၊ ဤသို့
ပြုကြကုန်အံ့၊ ထိုသို့ပြုကြကုန်အံ့ဟု သင်တို့ဆို
၁၆ သင့်ရာဖြစ်၏။- ယခုမူ သင်တို့သည် မိမိထောင်
လွှားခြင်း၌ ဝါကြွားကြသေး၏။ ထိုသို့သောဝါ
ကြွားခြင်းရှိသမျှသည် မကောင်းမသင့်ဖြစ်၏။-

၁၇ ထိုကြောင့်၊ ကောင်းသောအကျင့်ကို အိလျက်မ
ကျင့်ဘဲနေသောသူသည်အပြစ်ရှိ၏။

၅

၁ အချင်းသူဌေး၊ သူကြွယ်တို့၊ ယခုလာကြ။ သင်
တို့အပေါ်၌ ရောက်လတံ့သောဆင်းရဲဒုက္ခ ဝေ
၂ ဒနာကြောင့်ငိုကြွေးအော်ဟစ်ကြ။- သင်တို့ဥစ္စာ
ပစ္စည်းသည်ပုပ်စပ်လျက်ရှိ၏၊ အဝတ်ကိုလည်း
၃ ပိုးကိုက်စားလေပြီ။- ရွှေငွေလည်းအချေးတက်
၍ပျက်ကုန်ပြီ။ ထိုအချေးသည် သင်တို့တစက်၌
သက်သေဖြစ်၍၊ မီးကဲ့သို့သင်တို့အသားကိုစား
လိမ့်မည်။ နောက်ဆုံးသော နေ့ရက်ကာလအဖို့
၄ အလျှာကိုဆည်းပူးကြပြီတကား။- နားထောင်
ကြ။ သင်တို့ လယ်ကွက်၌ ရိတ်သော သူတို့ ကို
လှည့်စား၍၊ အခမပေးဘဲ နေသောကြောင့်၊ ထို
အခသည်ကြွေးကြော်လေ၏။ ရိတ်သောသူတို့၏
အော်ဟစ်ခြင်း အသံသည်လည်း၊ ကောင်းကင်
ဗိုလ်ခြေ အရှင်ထာဝရ ဘုရား၏ နားတော်ထဲသို့
၅ ဝင်လေပြီ။- သင်တို့သည်မြေကြီးပေါ်မှာကာမ
ဂုဏ်ခံစား၍အလွန်ပျော်မွေ့ကြပြီ။ သတ်ရသော
၆ နေ့၌ကဲ့သို့၊ မိမိတို့နှစ်လုံးကိုမွေးမြူကြပြီ။- ဖြောင့်
မတ်သောသူကို အပြစ်စီရင်၍ ကွပ်မျက်ကြပြီ။
သူသည်လည်းသင်တို့ကိုမဆီးတား။
၇ ထိုကြောင့်၊ ညီအစ်ကိုတို့၊ သခင်ဘုရားကြွလာ
တော်မူသည် တိုင်အောင် သည်းခံလျက် စောင့်
နေကြလော့။ အကယ်၍လယ်လုပ်သောသူသည်
အရင်မိုဃ်း၊ နောက်မိုဃ်းကို ရ သည် တိုင်
အောင်၊ အဘိုးထိုက်သောမြေအသီးကိုသည်းခံ
၈ လျက် စောင့်နေ၍ မျှော်လင့်တတ်၏။- သင်တို့
သည်လည်း သည်းခံလျက် စောင့် နေကြလော့။
ကိုယ်စိတ် နှစ်လုံးကို မြဲမြံ စေကြလော့။ သခင်
ဘုရား ကြွလာတော်မူသောအချိန် ရောက်လုနီး
၉ ပြီ။- ညီအစ်ကိုတို့၊ စစ်ကြောစီရင်ခြင်းနှင့်ကင်း
လွတ်မည် အကြောင်း၊ အချင်းချင်း ငြင်းခုံ ဖြစ်
တင်ခြင်းကိုမပြုကြနှင့်။ တရားစီရင်ပိုင်သောသူ
၁၀ သည်တံခါးနားမှာရှိတော်မူ၏။- ညီအစ်ကိုတို့၊
ထာဝရဘုရား၏ နာမတော်ကို အမှီပြု၍ ဟော
ပြောသော ပရောဖက်တို့သည် ဆင်းရဲဒုက္ခ တွေ့
ခြင်း၊ သည်းခံခြင်း၏ ပုံသက်သေကိုပြုကြပြီဟု
၁၁ မှတ်ကြလော့။- သည်းခံနိုင်သော သူတို့သည်
မင်္ဂလာရှိသော သူဟူ၍ ငါတို့ သည် ခေါ်ကြ၏။
ယောဘအသည်းခံကြောင်းကိုသင်တို့ကြား
ရကြပြီ။ ထာဝရဘုရားသည် မိမိအမှုကိုထတ်စ
သတ်တော်မူရာမှာ အလွန်သနား စုံမက်တော်မူ
ကြောင်းကိုလည်းသိမြင်ရကြပြီ။
၁၂ ငညီအစ်ကိုတို့၊ ခပ်သိမ်းသော အမှုအရာတို့
တွင် ကျိန်ဆိုခြင်းကို သာ၍ ရှောင်ကြလော့။
ကောင်းကင်ဘုံကို တိုင်တည်၍ မကျိန်ကြနှင့်။
မြေကြီးကို တိုင်တည်၍ မကျိန်ကြနှင့်။ ထိုမှတ
ပါး၊ အဘယ်အကျိန်အားဖြင့်မျှ မကျိန်ကြနှင့်။
အပြစ်စီရင်ခြင်းနှင့် ကင်းလွတ်မည်အကြောင်း၊
သင်တို့စကားမှာ၊ ဟုတ်သည်ကိုအဟုတ်၊ မဟုတ်
သည်ကိုမဟုတ်ဖြစ်စေကြလော့။
၁၃ သင်တို့တွင် ဆင်းရဲခံရသော သူရှိလျှင် ဆု
တောင်းစေ။ ရွှင်လန်းသောသူရှိလျှင် ဆာလံသီ
၁၄ ခြင်းကိုဆိုစေ။- နာသောသူရှိလျှင်၊ သင်းအုပ်တို့
ကိုခေါ်၍သူတို့သည်သခင်ဘုရား၏နာမတော်ကို
အမှီပြုလျက်၊ လူနာကိုဆီနှင့်လူး၍သူ့အပေါ်မှာ
၁၅ ဆုတောင်းကြစေ။- ထိုသို့ပြုလျှင်၊ ယုံကြည်ခြင်း
၏ ပဌနာသည် လူနာကို ကယ်ဆယ်၍၊ သခင်
ဘုရားသည်သူကိုထမြောက်စေတော်မူမည်။ သူ
သည် အပြစ်ပြုမိသော်လည်း၊ ထိုအပြစ်ကို လွှတ်
၁၆ တော်မူမည်။- အ ချင်းချင်း တ ယောက် နှင့် တ
ယောက်၊ ကိုယ်အပြစ်ကိုဖော်ပြတောင်းပန်ကြ
လော့။ ချမ်းသာရမည်အကြောင်း၊ အချင်းချင်း
တို့အဖို့ဆုတောင်းကြလော့။ သူတော်ကောင်းဆု
တောင်း၍ အရှိန်ကြီးသောပဌနာသည် အထွန်
၁၇ တန်ခိုးပါ၏။- ဧလိယသည်ငါတို့ကဲ့သို့သောကာမ
တရား၌ကျင်လည်သောသူဖြစ်သော်လည်း၊ မိုဃ်း
မရွာမည် အကြောင်း၊ အထူးသဖြင့် ဆုတောင်း
သော အခါ၊ သုံးနှစ်နှင့် ခြောက်လ ပတ်လုံး မြေ
၁၈ ပေါ်သို့ မိုဃ်း မရွာဘဲ နေ၏။- တဖန် ဆုတောင်း
သောအခါ၊ မိုဃ်းကောင်းကင်သည် မိုဃ်းရွာစေ
၏။ မြေကြီးသည်လည်း မိမိအသီးကိုသီးလေ၏။
၁၉ ညီ အစ်ကိုတို့၊ သင် တို့တွင် တစုံ တယောက်
သောသူသည် သမ္မာတရားလမ်းမှလွဲသွား၍သူ
၂၀ တပါးသည်ထိုသူကိုပြန်စေလျှင်မူကား၊- အပြစ်
ရှိသောသူကိုမှားယွင်းသောလမ်းမှပြန်စေသော
သူသည်၊ ဝိညာဉ်ကိုသေခြင်းမှကယ်တင်၍များ
စွာသော အပြစ်တို့ကိုဖုံးအုပ်တတ်သည်ဟု၊ ထို
သူသည်အသိမှတ်စေ။

ရှင်ယာကုပ်ဩဝါဒစာပြီး၏။

# ရှင်ပေတရုဩဝါဒစာပဌမစောင်။

## THE FIRST EPISTLE OF PETER.

၁

၁ ယေရှုခရစ်၏တမန်တော်ငါပေတရုသည်၊
၂ နှာမထောင်ခြင်းကျေးဇူး၊ ယေရှုခရစ်၏အသွေး
တော်နှင့် ဖြန်းခြင်းကျေးဇူးကို ခံရမည်အ
ကြောင်း၊ ဝိညာဉ်တော်အားဖြင့် သန့်ရှင်းခြင်း
သို့ရောက်၍၊ ခမည်းတော်ဘုရားသခင်၏အနာ
ဂတ်သညာဏ်တော်အတိုင်းရွေးကောက်တော်
မူသောသူတည်းဟူသော၊ ပုန္တုပြည်၊ ဂလာတိ
ပြည်၊ ကပ္ပဒေါကိပြည်၊ အာရှိပြည်၊ဗိသုနိပြည်၊
အရပ်ရပ်တို့၌ကွဲပြားသောဧည့်သည်အာဂန္တု
တို့ကို ကြားလိုက်ပါ၏။ ကျေးဇူးတော်နှင့် ငြိမ်
သက်ခြင်းသည်သင်တို့၌များပြားပါစေသော။
၃ အသက်ရှင်ခြင်းနှင့် စပ်ဆိုင်သောမျှော်လင့်
ခြင်းအကြောင်းရှိစေခြင်းငှါ၊ သေကြောင်းပြန်ခြင်း၊
ညစ်ညူးခြင်း၊ ညှိုးနွမ်းခြင်းနှင့် ကင်းစင်သော
အမွေတော်ကိုငါတို့သည်ခံရစေမည်အကြောင်း၊
ယေရှုခရစ်ကို သေခြင်းမှ ထမြောက်စေတော်မူ
သောအားဖြင့်၊ကြီးစွာသောကရုဏာတော်နှင့်
အညီငါတို့ကိုတဖန်ဖြစ်ဖွားစေတော်မူသော၊ငါ
တို့သခင်ယေရှုခရစ်၏ခမည်းတော်ဘုရားသခင်
၄ သည် မင်္ဂလာရှိတော်မူစေသတည်း။- ထိုအမွေ
၅ တော်သည်ကာလ၏နောက်ဆုံးသောကာလ၌ထင်
ရှားစေခြင်းငှါ ဖွင့်ဆင်သောကယ်တင်ခြင်းသို့
ရောက်စေမည်အကြောင်း၊ ယုံကြည်ခြင်းအား
ဖြင့် ဘုရားသခင်၏ တန်ခိုးတော်သည် စောင့်
ရှောက်တော်မူသော သင်တို့အဖို့ ကောင်းကင်
၆ ဘုံ၌သိုထားလျက်ရှိသောအမွေတည်း။-အရည်
၇ ကြိမ်၍ စုံစမ်းခြင်းကို ခံနိုင်သော်လည်း၊ ပျက်စီး
တတ်သောရွှေကိုစစ်ကြောစုံစမ်းခြင်းထက်၊သင်
တို့ ယုံကြည်ခြင်းကို စစ်ကြော စုံစမ်းခြင်းအရာ
သည်သာ၍မြတ်သည်နှင့်၊ ယေရှုခရစ်ပေါ်ထွန်း
တော်မူသောအခါ အချီးအမွမ်း၊ ဂုဏ်အသရေ၊
ဘုန်းအာနုဘော်အလို့ငှါ ဖြစ်မည်အကြောင်း၊
အထူးထူး အပြားပြားသော စုံစမ်းနှောင့်ရှက်
ခြင်းကို ခံရသောအကြောင်းရှိလျှင်၊ သင်တို့
သည်ယခုဏာခံရ၍ဝမ်းနည်းသော်လည်း၊ အ
ထက်ဆိုခဲ့ပြီးသောကျေးဇူးတော်ကို ထောက်၍
၈ ရွှင်လန်းသောစိတ်ရှိကြ၏။- ထိုသခင်ကိုသင်တို့
သည် မမြင်ဘူးသော်လည်း ချစ်ကြ၏။ ယခုမှာ
လည်းမမြင်ဘဲလျက်၊ ယုံကြည်သောအားဖြင့်
ဘုန်းအသရေနှင့် စပ်ဆိုင်သော၊ ပြော၍မရှိနိုင်
သော ရွှင်လန်းခြင်းစိတ်နှင့် ဝမ်းမြောက်ကြ
၉ သည်ဖြစ်၍၊- စိတ်ဝိညာဉ်ကို ကယ်တင်ခြင်း
တည်းဟူသော ယုံကြည်ခြင်း၏အကျိုးကို ခံရ
ကြ၏။
၁၀ ထိုကယ်တင်ခြင်းအကြောင်းအရာကို ပရော
ဖက်တို့သည်စေ့စေ့စစ်ကြောမေးမြန်းရှာဖွေ၍၊
သင်တို့ခံရသောကျေးဇူးတော်အကြောင်းကို
၁၁ ဟောပြောကြပြီး၊- ခရစ်တော်ခံတော်မူရသော
ဆင်းရဲကိုငှင်၊ ဆင်းရဲခံပြီးမှ ဝင်စားတော်မူရ
သောဘုန်းစည်းစိမ်ကိုငှင်၊သူတို့အထဲ၌ရှိသော
ခရစ်တော်၏ ဝိညာဉ်သည် သက်သေခံနှင့်သော
အခါ၊ အဘယ်မည်သောသူကိုငှင်၊ အဘယ်သို့
သောအချိန်ကာလကိုငှင်ဆိုလိုတော်မူသည်ဟု
၁၂ မေးမြန်းရှာဖွေကြ၏။- ကိုယ်ဟောပြောပြုရ
သော အရာများတို့သည်၊ ကိုယ်အဖို့မဟုတ်၊
သင်တို့အဖို့ဖြစ်သည်ဟု၊ ထိုသူတို့အားဖွင့်ပြ
တော်မူ၏။ ကောင်းကင်ဘုံမှ စေလွှတ်တော်မူ
သောသန့်ရှင်းသောဝိညာဉ်တော်ပါလျက်၊ သင်
တို့အား ဧဝံဂေလိတရားကို ဟောပြောသောသူ
တို့သည်၊ထိုအရာများကိုသင်တို့အား ယခုကြား
ပြောကြပြီ။ ထိုအရာတို့ကိုကောင်းကင်တမန်တို့
သည်စေ့စေ့ကြည့်ရှုစည်းစားချင်သောစေတနာ
စိတ်ရှိကြ၏။
၁၃ သို့ဖြစ်၍၊ သင်တို့စိတ်နှစ်လုံးကိုခါးပန်းစည်း
၍ သမ္မာသတိရှိကြလော့။ ယေရှုခရစ်ပေါ်ထွန်း
တော်မူသောအခါ၊ သင်တို့ဆီသို့ ရောက်ထတ့်
သောဆုကျေးဇူးကိုအဆုံးတိုင်အောင်မျှော်လင့်
၁၄ ကြလော့။- အထက်ကသင်တို့သည်မှောင်မိုက်
ထဲမှာကျင့်သော တပ်မက်ခြင်းတရားကို ယခုမ
လိုက်မကျင့်ဘဲ၊ နားထောင်တတ်သော သူငယ်
၁၅ ကဲ့သို့ဖြစ်၍၊- သင်တို့ကို ခေါ်တော်မူသော သူ

သည် သန့်ရှင်းတော်မူသည်နည်းတူ၊ ကျင့်ကြံ
၁၆ ပြုမူ သမျှတို့၌ သန့်ရှင်းခြင်း ရှိကြလော့။- အ
ကြောင်းမူကား၊ ငါသည်သန့်ရှင်းတော်မူသော
ကြောင့်၊ သင်တို့သည်လည်းသန့်ရှင်းခြင်းရှိကြ
၁၇ လော့ဟု၊ ကျမ်းစာ လာသတည်း။- လူမျက်နှာ
ကိုမငဲ့၊ ခပ်သိမ်းသောသူတို့၏ အကျင့်အတိုင်းစီ
ရင်တော်မူသော ခမည်းတော်ကို သင်တို့သည်
ဆုတောင်း ကိုးကွယ် လျှင်၊ ဧည့်သည် ဖြစ် စည်
ကာ သပတ်လုံးကြောက်ရွံ့သောစိတ်နှင့်ကျင့်နေ
၁၈ ကြလော့။- မိစည်ဖသက် ကျင်လည်သော အ
ချည်းနှီးကျင့်ကြံပြုမူခြင်းမှ၊ ရွှေငွေအစရှိသော
ဖောက်ပြန် ပျက်စီးတတ်သောဥစ္စာနှင့် သင်တို့
၁၉ ကိုရွေးတော်မူသည်မဟုတ်၊- အပြစ်အနာ
မရှိ၊ အညစ်အကြေးနှင့် ကင်းစင်သော သိုးသ
ငယ်ကဲ့သို့သောခရစ်တော်၏အသွေးတော်မြတ်
၂၀ နှင့် ရွေးတော်မူသည်ကို သိမှတ်ကြလော့။- ထို
ခရစ်တော်ကား၊ ဤကမ္ဘာမတည်မရှိမှီ ခန့်ထား
တော်မူခြင်းကို ခံနှင့် သည် ဖြစ်၍၊ ကိုယ်တော်
အားဖြင့် ဘုရားသခင်ကိုယုံကြည်သော သင်တို့
အဖို့၊ ဤနောက်ဆုံးသောကာလ၌ထင်ရှားတော်
၂၁ မူပြီ။-သင်တို့သည် ဘုရားသခင်ကိုထောက်လျက်
ယုံကြည် ခြင်း၊ မျှော်လင့်ခြင်း ရှိစေခြင်းငှါ၊ ထို
သခင်ကိုဘုရားသခင်သည်သေခြင်းမှထမြောက်
စေ၍ဘုန်းအသရေကိုပေးသနားတော်မူပြီ။
၂၂ သင်တို့သည် ဖောက်ပြန် ပျက်စီးတတ်သော
၂၃ မျိုးစေ့အားဖြင့် ဖြစ်ပွားသည်မဟုတ်၊ မဖောက်
ပြန်မပျက်စီးတတ်သော မျိုးစေ့တည်းဟူသော၊
အသက်ရှင်၍ အစဉ်အမြဲ တည်တော် မူသော
ဘုရားသခင်၏ နှုတ်ကပတ်တော် အားဖြင့် ဖြစ်
ပွားသောကြောင့်၊ ညီအစ်ကိုများကိုချစ်ရောင်မ
ဆောင်၊အမှန်ချစ်ခြင်းအလို့ငှါ၊စိတ်ထဲမှာသစ္စာ
တရားကို နားထောင်လျက်၊ ကိုယ်စိတ်နှစ်လုံး
ကို စင်ကြယ်စေပြီးသည် နှင့် အညီ၊ စင်ကြယ်
သောစိတ်နှင့်အချင်းချင်းအားကြီးသောချစ်ခြင်း
၂၄ မေတ္တာရှိကြလော့။-လူမျိုးခပ်သမျှသည်မြက်ပင်
ကဲ့သို့ဖြစ်၏။ လူမျိုး၏ ဘုန်းရှိသမျှသည်သည်း၊
မြက်ပွင့် ကဲ့သို့ဖြစ်၏။ မြက်ပင် သည် ညှိုးနွမ်း
သွေ့ခြောက် ၍သေ၏၊အပွင့်လည်းကြွေတတ်၏။-
၂၅ ထာဝရဘုရား၏နှုတ်ကပတ်တရားမူကား၊ ကာ
လ အစဉ် အမြဲ တည်၏။ ထို နှုတ် ကပတ်တော်
သည်၊ သင်တို့အား ဟောပြောသော ဧဝံဂေလိ
တရားဖြစ်သတည်း။

၂

၁ ထိုကြောင့်၊ သင်တို့သည်သခင်ဘုရား၏ကျေး
၂ ဇူးတော်ကိုမြည်းစမ်းကြသည်ဖြစ်၍၊အမျိုးမျိုး
၃ သောမနာလိုခြင်း၊လှည့်ဖြားခြင်း၊လျှို့ဝှက်ခြင်း၊
ငြူစူခြင်း၊ ကဲ့ရဲ့ခြင်းရှိသမျှကိုပယ်ရှား၍၊ကယ်
တင်ခြင်း အလို့ငှါ နှုတ်ကပတ် တရား၏ နို့ စင်
အားဖြင့် ကြီးပွားမည်အကြောင်း၊ ဖွားစသော
သူငယ်ကဲ့သို့၊ ထိုတရားနို့ကိုအလွန်လိုချင်သော
၄ စိတ်ရှိကြလော့။-လူတို့ပယ်ထား၍ ဘုရားသခင်
ရွေးချယ် တော်မူသော အသက် ကျောက် မြတ်
တည်း ဟူ သော၊ ထို သခင်ထံသို့ သင်တို့သည်
၅ ရောက်၍၊- အသက်ကျောက်များကဲ့သို့ အဆောက်
အဦ တည်ဆောက်လျက် ရှိသဖြင့်၊
ဗိမာန်တော်ဖြစ်ကြ၏။ ယေရှုခရစ်အားဖြင့်၊ဘုရား
သခင် နှစ် သက် တော် မူရာ ဝိညာဉ် ယဇ်ကို ပူဇော်
ရ သော သန့် ရှင်း သော ယဇ်ပုရောဟိတ် မျိုး
၆ လည်းဖြစ်ကြ၏။- ထိုသို့နှင့်အညီ ကျမ်းစာလာ
သည်ကား၊ ရွေးချယ်သော ထိုက်ထောင့်အမြစ်
ကျောက်မြတ်ကို ဇိအုန်တောင်ပေါ်မှာငါချထား
၏။ ထိုကျောက်ကို အမှီပြုသော သူသည် ရှက်
၇ ကြောက်ခြင်း မရှိနိုင်ရာဟု လာသတည်း။- ထို
ဖြစ်၍၊ ယုံကြည်ခြင်းရှိသောသင်တို့၌ကား၊ဘုန်း
အသရေ ရှိ၏။ နား မထောင် သော သူတို့၌ကား
တိုက်ကို တည်လုပ်သောသူများပယ်ထားသော
ကျောက်သည် ထောင့်တစ်ခုထိုက်ထောင့်အထွတ်
၈ သို့ ရောက်ပြန်၏။- နားမထောင်ဘဲ နှုတ်က
ပတ်တရားတော်ကို ထိမိ၍ လဲသော သူတို့သည်
ထိမိ၍ လဲစရာကျောက်၊ မှားယွင်းစရာကျောက်
လည်းဖြစ်၏။ ထိုအမှုနှင့်တွေ့စေခြင်းငှါထိုသူတို့
ကိုခန့်ထားတော်မူသတည်း။
၉ သင်တို့မူကား၊ မှောင်မိုက်ထဲမှထွက်၍ထူးဆန်းသော
အလင်း တော် သို့ ခေါ်သွင်း တော် မူ သော သူ၏
ဂုဏ်ကျေးဇူးများကိုဖော်ပြစေခြင်းငှါ၊ရွေးချယ်
တော်မူသောအမျိုး ဖြစ်ကြ၏။ မင်း စည်းစိမ်ရှိ
သောယဇ်ပုရောဟိတ်မျိုး၊သန့်ရှင်းသောလူမျိုး
ပိုင်ထိုက်တော်မူသောအပေါင်း အသင်း ဖြစ်ကြ
၁၀ ၏။- အထက်က အပေါင်းအသင်းမဟုတ်၊ ယခု
တွင်ဘုရားသခင်၏ အပေါင်းအသင်း ဖြစ်ကြ၏။
ကရုဏာ ကျေးဇူး တော် ကို အထက် က မခံရ
သော်လည်း ယခုတွင်ခံရကြ၏။
၁၁ ချစ်သူတို့၊ ငါသည်နှင့်စပ်ပြိုင်တတ်သောကိုယ်
ကာမတပ်မက်ခြင်းတို့ကိုရှောင်မည်အကြောင်း၊



 

ညှိသည် အာဂန္တုကဲ့သို့သော သင်တို့ကို ငါ
၁၂ တောင်းပန်၏။-သာသနာပလူတို့သည်သင်တို့ကို
ကဲ့ရဲ့ပြစ်တင်ကြသည်အမှုမှာ၊ ဘုရားသခင်ကြည့်
ရှုစီရင်တော်မူသောနေ့ရက်၌၊ သင်တို့၏ကောင်း
သောအကျင့်ကို သူတို့သည်ထောက်ရှု၍ဘုရား
သခင်ကို ချီးမွမ်းမည်အကြောင်း၊ သူတို့ရှေ့၌
တင့်တယ်လျောက်ပတ်စွာ ကျင့်နေကြလော့။
၁၃ သခင်ဘုရား၏မျက်နှာတော်ကိုထောက်လျက်၊
အာဏာအမြတ်တည်းဟူသောရှင်ဘုရင်ဖြစ်စေ၊
လူဆိုးတို့ကိုဒဏ်စီရင်စေခြင်းငှါ၎င်း၊လူကောင်း
၁၄ တို့ကိုချီးမွမ်းစေခြင်းငှါ၎င်း၊-ရှင်ဘုရင်ခန့်ထား
သောဝန်မင်းဖြစ်စေ၊လူတို့တွင်စီရင်ခန့်ထားသ
မျှသောမင်း၏ အုပ်စိုးခြင်းကို ဝန်ခံကြလော့။-
၁၅ အကြောင်းမူကား၊ သင်တို့သည် ကောင်းသော
အကျင့်ကိုကျင့်သောအားဖြင့် လူမိုက်တို့၏မိုက်
မဲသော စကားကို ချုပ်စေခြင်းငှါ၊ ဘုရားသခင်
၁၆ သည်ထိုသို့သော အလိုတော်ရှိ၏။- လူလွတ်ဖြစ်
သော်လည်း၊လွတ်ခြင်းအကြောင်းဖြင့်မကောင်း
သောအမှုတို့ကို ဖုံးအုပ်သော သူကဲ့သို့ မကျင့်၊
၁၇ ဘုရားသခင်၏ကျွန်ကဲ့သို့ကျင့်နေကြလော့။-ခပ်
သိမ်းသော သူတို့ကိုရိုသေကြလော့။ ညီအစ်ကို
များကိုချစ်ကြလော့။ ဘုရားသခင်ကိုကြောက်ရွံ့
ခြင်း၊ ရှင်ဘုရင်ကိုရိုသေခြင်းရှိကြလော့။
၁၈ အစေခံငယ်သားတို့၊ အလွန်ကြောက်ရွံ့ခြင်း
နှင့်တကွကိုယ်သခင်တို့၏ အုပ်စိုးခြင်းကိုဝန်ခံ
ကြလော့။သခင်သည်စိတ်ကောင်း၍ဖြည်းညှင်း
သောသဘောရှိသည်ဖြစ်စေ၊ ကြမ်းတမ်းသော
၁၉ သဘောရှိသည် ဖြစ်စေ၊ ဝန်ခံကြလော့။- အ
ကြောင်းမူကား၊ ဘုရားသခင်၏မျက်နှာတော်ကို
ထောက်၍၊ မတရားသောညှဉ်းဆဲခြင်းကို နာ
၂၀ ကြင်စွာ ခံရလျှင် ကျေးဇူးရှိ၏။- ကိုယ်အပြစ်
ကြောင့် ဒဏ်ခံရသောအခါ သည်းခံလျှင်၊ အ
ဘယ်ချီးမွမ်းစရာရှိသနည်း။ကောင်းမွန်စွာပြု၍
ဆင်းရဲခံရသောအခါသည်းခံလျှင်၊ဘုရားသခင်
၂၁ ရှေ့တော်၌ကျေးဇူးရှိ၏၊-အကြောင်းမူကား၊ထို
သို့အလိုငှါသင်တို့ကိုခေါ်တော်မူပြီ။ ခရစ်တော်
သည် ငါတို့အတွက် ခံတော်မူသည်ဖြစ်၍၊ ခြေ
တော်ရာကို ရှောက်လိုက်စေခြင်းငှါ ပုံသက်သေ
၂၂ ကိုထားတော်မူပြီ။- ထိုသခင်သည် ဒုစရိုက်ကိုမ
၂၃ ပြု၊ နှုတ်တော်၌လည်းမုသာကိုရှာ၍မတွေ့။- ကဲ့ရဲ့
ခြင်းကို ခံရသောအခါ ပြန်၍မကဲ့ရဲ့၊ အသေခံရ
သောအခါ ခြိမ်းခြောက်ခြင်းကိုမပြု။ တရားသ
ဖြင့်စီရင်တော်မူသောသူ၌ ကိုယ်ကိုကိုယ်အပ်
၂၄ နှံတော်မူ၏။- ငါတို့သည် အပြစ်နှင့်ဆိုင်သော
အရာ၌အသေဖြစ်၍၊ ဖြောင့်မတ်ခြင်းအရာ၌အ
သက်ရှင်စေမည်အကြောင်း၊ငါတို့အပြစ်များကို
ကိုယ်တော်တိုင်သစ်တိုင်မှာခံတော်မူပြီ။ ဒဏ်ချက်
ချက် တော် မှား အားဖြင့် သင် တို့ သည် အနာ
၂၅ ပျောက်လျက်ရှိကြ၏။- သင်တို့သည်အထက်က
လမ်းလွဲ၍ ပျောက် သော သိုးကဲ့သို့ ဖြစ်ကြ၏။
ယခုမူကား၊ သိုးထိန်းတည်းဟူသောသင်တို့၏
ဝိညာဉ်တို့ကို အုပ်စိုးကြည့်ရှုတော် မူသော အ
ရှင်ထံသို့ပြန်ရောက်ကြပြီ။

၃

၁ ထိုနည်းတူ၊မိန်းမတို့၊ ကိုယ်
၂ ခင်ပွန်း၏ အုပ်စိုးခြင်းကို ဝန်ခံကြလော့။ သို့ပြု
၍၊ နှုတ်ကပတ်တရားတော်ကိုနားမထောင်သော
ယောက်ျား အချို့ရှိလျှင်၊ ထိုသူတို့သည်တရား
မနာသော်လည်း၊ သင်တို့၏ ကြောက်ရွံ့ခြင်းနှင့်
စင်ကြယ်သော အကျင့်တို့ကို ထောက်ရှု၍၊ မိမိ
မယား၏အကျင့်အားဖြင့် သွေးဆောင်လျက်အ
၃ တူပါမည် အကြောင်းရှိ၏။- သင်တို့၌ အန်ဆာ
ဆင်ခြင်းမူကား၊ ဆံပင်ကျစ်ခြင်း၊ ရွှေဆင်ခြင်း၊
အဝတ်ဝတ်ခြင်းတည်းဟူသော အပြင်တန်ဆာ
၄ ဆင်ခြင်းမဖြစ်စေဘဲ၊-ဘုရားသခင်ရှေ့မှာအဖိုး
များစွာထိုက်သောနူးညံ့ငြိမ်သက်ခြင်းသဘော
တည်းဟူသော၊ မဖောက်ပြန် မပျက်စီးတတ်
သောတန်ဆာဆင်ခြင်းရှိသော စိတ်နှလုံး၏အ
၅ တွင်း၊လူဖြစ်စေကြလော့။- ဘုရားသခင်ကို ကိုး
၆ စား၍ သန့်ရှင်းသော မိန်းမတို့ သည် ရှေးက ထိုသို့
ကိုယ်ကို တန်ဆာဆင်လျက်၊ စာရာသည် အာ
ဗြဟံကို သခင်ဟုခေါ်ဝေါ်၍ သူ၏စကားကို နား
ထောင်သကဲ့သို့၊ ကိုယ်ခင်ပွန်း၏အုပ်စိုးခြင်းကို
ဝန်ခံကြ၏၊ သင်တို့သည်ကောင်းမွန်စွာကျင့်၍၊
ကြောက်ရွံ့တုန်လှုပ်ခြင်းအလျှင်းမရှိဘဲနေလျှင်
၇ စာရာ၏သမီးဖြစ်ကြ၏။- ထိုနည်းတူ၊ယောက်ျား
တို့၊ ဆုတောင်းခြင်းအမှု၌ အဆီးအတားမရှိစေ
ခြင်းငှါ အသက်ရှင်ခြင်းကျေးဇူးတော်ကိုဆတူ
ခံ၍ အမွေခံရသော သူချင်းကဲ့သို့၊ သတိပညာ
နှင့်လျော်စွာ ကိုယ်ခင်ပွန်းနှင့်အတူနေ၍၊ အား
နည်းသောသူကိုပြုသင့်သည် အတိုင်းသူကိုစောင့်
မပြုစုကြလော့
၈ အချုပ်အခြာစကားဟူမူကား၊ သင်တို့အ
ပေါင်းသည် စိတ်တညီတညွတ်တည်းရှိကြ

လေ၃။မိတ်ကြွင်နာခြင်း၊ညီအစ်ကိုချင်းကဲ့သို့ချစ်
ခြင်း၊ သနားစုံမက်ခြင်း၊ မိတ်နှိမ့်ချခြင်းရှိကြ
၉ လေ၃။- သင်တို့သည်ကောင်းကြီးမင်္ဂလာကိုအ
မွေခံစေခြင်းအလို့ငှါ ခေါ်တော်မူသော သူဖြစ်
သည်ဟုသိမှတ်၍၊ အချင်းချင်းရန်တုံ့မမူ၊ ပြန်၍
၁၀ မကဲ့ရဲ့၊မေတ္တာသို့ခြင်းကိုပြုကြလေ၃။- အသက်
ကိုနှစ်သက်၍၊ ကောင်းမွန်သော နေ့ရက်တို့
ကိုတွေ့မြင်ခြင်းငှါအလိုရှိသောသူသည်၊မိမိလျှာ
ကို မကောင်းသောအ ရာနှင့် ကင်းလွတ်စေ၊ မိမိ
နှုတ်ခမ်းလည်းမုသာစကားကို မပြောစေနှင့်။-
၁၁ ဒုစရိုက်ကိုလွှဲရှောင်၍ သုစရိုက်ကိုပြုစေ၊ သူတ
ပါးနှင့် အသင့်အတင့်နေခြင်းကိုရှာ၍ မှီအောင်
၁၂ လိုက်စေ၊- အကြောင်းမူကား၊ ထာဝရဘုရား
သည်ဖြောင့်မတ်သောသူတို့ကိုကြည့်ရှုတော်မူ၏၊
သူတို့ဆုတောင်းခြင်းကိုလည်းနားထောင်တော်
မူ၏၊ ဒုစရိုက် ပြု သော သူတို့ ကိုကား၊ ထာဝရ
၁၃ ဘုရားသည်မျက်နှာလွှဲတော်မူ၏၊- သင်တို့သည်
ကောင်းသောတရားကို ကျင့်သော သူ ဖြစ်လျှင်၊
၁၄ အဘယ်သူညှဉ်းဆဲမည်နည်း။-ဖြောင့်မတ်ခြင်း
တရားကြောင့်ဆင်းရဲခံရလျှင်မူကား၊မင်္ဂလာရှိ
ကြ၏၊ သူတို့၏ ခြိမ်းခြောက် ခြင်းကို မကြောက်
၁၅ ကြနှင့်၊ မထိတ်ထန့်ကြနှင့်။- စိတ်နှလုံး ထဲ၌
ထာဝရအရှင် ဘုရားသခင်ကို ရိုသေခြင်း ရှိကြ
လေ၃၊ သင်တို့ မျှော်လင့်ခြင်း၏ အကြောင်းကို
မေးမြန်းသောသူရှိသမျှတို့အား၊ နူးညံ့သောသ
ဘော၊ကြောက်ရွံ့သောသဘောနှင့်ပြန်ပြောခြင်း
ငှါ၊ကာလအစဉ်မပြတ်အသင့်ရှိနေကြလေ၃။-
၁၆ ခရစ်တော်၌ သင်တို့ကျင့်သော အကျင့် ကောင်း
ကို ရှုတ်ချသော သူတို့သည် ကဲ့ရဲ့ ပြစ်တင်သော
အခါ၊ ကိုယ်တိုင် ရှက်ကြောက်ခြင်း ရှိမည်အ
ကြောင်း၊ သင်တို့သည် ကိုယ်ကို ကိုယ်သိသော
၁၇ စိတ်ကြည်သင်လျက်နေကြလေ၃။-ဘုရားသခင်
အလိုတော်ရှိလျှင်၊ သုစရိုက် ကိုပြု၍ ဆင်းရဲ ခံ
ခြင်းသည်၊ ဒုစရိုက်ကိုပြု၍ ခံခြင်းထက် သာ၍
၁၈ ကောင်း၏။- ခရစ်တော်သည် ကိုယ်ခန္ဓာ အား
ဖြင့်အသေသတ်ခြင်းကိုခံ၍၊ ဝိညာဉ်တော်အား
ဖြင့်အသက်ရှင်ခြင်းသို့ ရောက်တော်မူသည်ဖြစ်
၍ ငါတို့ကိုဘုရားသခင်အထံတော်သို့ ပို့ဆောင်
ခြင်းငှါ၊ ဖြောင့် မတ် တော် မူသော သူ သည်၊ မ
ဖြောင့်မတ်သော သူတို့အတွက်၊ ဒုစရိုက်အပြစ်
၁၉ များကြောင့်တခါခံတော်မူ၏။- ထိုဝိညာဉ်တော်
အားဖြင့်လည်းကြွသွားတော်မူ၍၊ ယခုထောင်
ထဲ၌ရှိ ချောင်ထားသော ဝိညာဉ်တို့အားတရား
၂၀ ဟောတော်မူ၏။- ထိုဝိညာဉ်တို့မူကား၊ရှေးကာ
လ၊နောဧထက်ထက်၌၊ နည်းသောသူတည်းဟူ
သော လူရှစ်ယောက် တို့ကို ရေ အားဖြင့် ကယ်
ဆယ်သောသင်္ဘောကိုတည်လုပ်စဉ်တွင်၊ဘုရား
သခင်၏ ခန္တီတော်သည် ဆိုင်းထင့်တော်မူသော်
လည်း၊နားမထောင်သောဝိညာဉ်ဖြစ်သတည်း။-
၂၁ ထိုသို့သောဥပမာအတိုင်း၊ယခုတွင်နှစ်ခြင်းသည်
ယေရှုခရစ်ထမြောက်တော်မူသော အားဖြင့်၊ ငါ
တို့ကို ကယ်တင်တတ်၏၊ နှစ်ခြင်းဟု ဆိုသော်၊
ကိုယ်ကာယ၏ အညစ်အကြေးဆေးကြောခြင်း
ကိုမဆိုလို၊ ကိုယ်ကိုကိုယ်သိသောစိတ်ကြည်
သင်၍၊ ဘုရားသခင်ရှေ့၌ ဝန်ခံခြင်းကို ဆိုလိုသ
၂၂ တည်း။-ထိုသခင်သည်ကောင်းကင်ဘုံသို့ကြွတော်
မူသည်ဖြစ်၍၊ ကောင်းကင်တမန်အစရှိသောအာ
ဏာစက်တန်ခိုးများတို့ကိုအုပ်စိုးလျက်၊ဘုရား
သခင်၏လက်ျာတော်ဘက်၌ရှိတော်မူ၏။

၄

၁ ထိုသို့ခရစ်တော်သည် ကိုယ်ခန္ဓာတော်၌ ငါ
တို့အတွက်ခံတော်မူသည်မှန်သောကြောင့်သင်
တို့သည်၊ထိုသို့သောသဘောကို ထက်နတ်ပြု၍
သုံးစွဲကြလော့၊အကြောင်းမူကား၊ ကိုယ်ခန္ဓာ၌
ခံသောသူသည် ဒုစရိုက်တို့နှင့်လွတ်ငြိမ်းသည်
၂ ဖြစ်၍၊- နောက်တဖန် သူတို့၏ တပ်မက်ခြင်း
တရားကို မကျင့်၊ ဘုရားသခင်၏ အလိုတော်အ
တိုင်းကျင့်လျက်၊ ကိုယ်ခန္ဓာ အသက်အပိုင်းအ
ခြား ကျန်ရစ်သော ကာလကို လွန်စေတတ်၏။-
၃ သာသနာပလူတို့၏အလိုသို့လိုက်၍၊ ကိလေသာ
ညစ်ညူးခြင်း၊ကာမတပ်မက်ခြင်း၊စပျစ်ရည်နှင့်
ယစ်မူးခြင်း၊ ပွဲလုပ်ခြင်း၊သောက်ကျူးခြင်း၊အ
စေ့ရုပ်တုကိုကိုးကွယ်ခြင်း၌ကျင်လည်၍၊ငါတို့
လွန်စေပြီးသောအသက်ကာလသည်ငါတို့အား
၄ လောက်ပေ၏။-ယခုမှာသင်တို့သည်သူတို့နှင့်အ
တူမဆက်ဆံ၊ ကာမဂုဏ်၌ လွန်ကျူးညစ်ညူး
ခြင်းမပြုသည်အရာကိုသူတို့သည် အံ့ဩ၍ကဲ့
၅ ရဲ့တတ်ကြ၏။- သို့ဖြစ်၍၊ အသက်ရှင်သောသူ
တို့ကိုငှင်၊သေသောသူတို့ကိုငှင်တရားစီရင်ခြင်း
ငှါအသင့်ရှိတော်မူသောသူရှေ့၌၊ ထိုသူတို့သည်
၆ စစ်ကြောခြင်းကို ခံရကြလတ္တံ့။- ထိုအကြောင်း
ကြောင့်လူတို့ရှေ့၌ ကိုယ်ခန္ဓာအားဖြင့် အပြစ်စီ
ရင်ခြင်းကို ခံရ သော် လည်း၊ ဘုရား သခင် ရှေ့
တော်၌မိတ်ဝိညာဉ်အားဖြင့်အသက်ရှင်မည်အ

ကြောင်း၊ သေသောသူတို့သည် ဧဝံဂေလိတရား
ကိုကြားရကြ၏။
၇ ခပ်သိမ်းသော အမှုအရာတို့သည် အဆုံးသို့
ရောက်လုသည်ဖြစ်သောကြောင့်၊ သမ္မာသတိရှိ
ကြလော့။ ဆုတောင်းခြင်း အလို့ငှါ စောင့်နေကြ
၈ လော့။- အခြားသော အမှုအရာထက် မက၊ အ
ချင်းချင်း အား ကြီး သော ချစ် ခြင်း မေတ္တာ ရှိကြ
လော့။ချစ်ခြင်းမေတ္တာသည်များစွာသောအပြစ်
၉ တို့ကိုဖုံးအုပ်တတ်၏။-မြည်တမ်းခြင်းမရှိဘဲအ
၁၀ ချင်းချင်း၊ဧည့်သည်ဝတ်ကိုပြုကြလော့။-သင်တို့
သည် ဆုကျေးဇူးတော်ကို အသီးအသီး ခံရကြ
သည်နှင့်အညီ၊ဘုရားသခင်၏အထူးထူးအပြား
ပြားသော ကျေးဇူးတော် ဘဏ္ဍာစိုး ကောင်းကဲ့
၁၁ သို့၊အချင်းချင်းဝေငှပေးကမ်းကြလော့။-ဘုရား
သခင်သည်ယေရှုခရစ်အားဖြင့်ဘုန်း
တော် ထင်ရှားစေမည် အကြောင်း၊ ဟောပြော
သောသူသည် ဘုရားသခင်၏ ဗျာဒိတ် တော်နှင့်
အညီဟောပြောစေ၊အခြားသောအမှုကိုဆောင်
ရွက်သောသူသည်၊ဘုရားသခင်ပေးသနားတော်
မူသောအစွမ်းသတ္တိအတိုင်းဆောင်ရွက်စေ၊ ထို
ဘုရားသခင်သည်ကမ္ဘာအဆက်ဆက်ဘုန်းအသ
ရေအစွမ်းသတ္တိရှိတော်မူစေသတည်း၊အာမင်။
၁၂ ချစ်သူတို့၊ သင် တို့ကို စုံစမ်း စရာဘို့ ယခု ခံရ
သော မီး စစ်ခြင်း အရာ ကို ကား၊ သင်တို့၌ အံ့
ဩဖွယ်သောအရာဖြစ်သည်ဟု ထင်မှတ်၍၊
၁၃ အံ့ဩခြင်း မရှိကြနှင့်။- သင် တို့သည် ခရစ်
တော်၏ဆင်းရဲကိုဆက်ဆံကြသည်ဖြစ်၍၊ဘုန်း
တော်ပေါ်ထွန်းသောအခါ အလွန် ဝမ်း မြောက်
ရွှင်လန်းမည်အကြောင်း၊ ယခုပင်ဝမ်းမြောက်
၁၄ ကြလော့။- ခရစ်တော်၏နာမကြောင့်ကဲ့ရဲ့ခြင်း
ကိုခံရလျှင် မင်္ဂလာရှိကြ၏။ အကြောင်းမူကား၊
ဘုရားသခင်၏ဘုန်းကြီးသောဝိညာဉ်တော်သည်
သင်တို့ အပေါ်မှာ ကျိန်း ဝပ် တော်မူ၏။ သူတို့၌
ကား ကဲ့ရဲ့ခြင်း၊ သင်တို့၌ ကား ချီးမွမ်းခြင်း ရှိ
၁၅ တော်မူ၏။-လူ အသက်ကိုသတ်သောအပြစ်၊ သူ
ဥစ္စာကို ခိုးသောအပြစ်၊ ဒုစရိုက်ကို ပြုသော အ
ပြစ်၊ သူတပါးအမှု၌ ရောနှောသော အပြစ်ရှိ၍၊
၁၆ သင်တို့တွင်အဘယ်သူမျှမခံစေနှင့်။-ခရစ်ယာန်
ဖြစ်သောကြောင့်ခံရလျှင်မူကား၊ ရှက်ကြောက်
ခြင်းမရှိစေနှင့်။ ထိုအမှုကြောင့် ခံရလျှင် ဘုရား
၁၇ သခင်၏ဂုဏ်တော်ကိုချီးမွမ်းစေ။- ဘုရားသခင်
၏ အိမ်တော်သားတို့ကိုရှေးဦး စွာ စစ်ကြောစီရင်
ရသောအချိန်ရှိပြီ။ငါတို့ကိုရှေးဦးစွာစစ်ကြောစီ
ရင်လျှင်၊ ဘုရားသခင်၏ ဧဝံဂေလိ တရားစကား
ကိုနားမထောင်သောသူတို့၏အမှုသည်အဘယ်
၁၈ သို့ဖြစ်လိမ့်မည်နည်း။-ဖြောင့်မတ်သောသူသည်
ကယ်တင် ခြင်းသို့ ရောက် နိုင်ခဲသည် မှန်လျှင်၊
ဘုရားသခင်ကိုမကိုးကွယ်သောသူ၊ အပြစ်ထင်
ရှားသော သူ သည် အ ဘယ် မှာ ပေါ်လိမ့်မည်
၁၉ နည်း။-ထိုကြောင့်၊ဘုရားသခင်၏အလိုတော်အ
တိုင်းဆင်းရဲ ခံရသောသူတို့သည်၊ ဘုရားသခင်
ကိုသစ္စာရှိသောအသက်သခင်ကဲ့သို့မှတ်လျက်၊
ကောင်းသောအကျင့်ကိုကျင့်နေ၍၊ ကိုယ်တော်
၌မိမိတို့အသက်ဝိညာဉ်ကိုအပ်နှံကြစေ။

၅

၁ သင်း အုပ် အရာ ၌ ငါ၊ ခရစ်တော်၏ ဆင်းရဲ
ဒုက္ခဝေဒနာကိုသိမြင်သောသက်သေအရာ၌ငါ
ခန့်ထားသောသူ၊ထင်ရှားစေတော်မူလတံ့သော
ဘုန်း အ သရေ တော် ကို ဆက် ဆံ သော သူဖြစ်
သောငါပေတရုသည်၊ သင်တို့တွင်ရှိသောသင်း
၂ အုပ်ချင်း တို့ကို တောင်းပန် ပါ၏။- သင်တို့နှင့်
အ တူ ရှိ သော ဘုရား သခင် ၏ သိုး တော် စု ကို
ထိန်းခြင်း အမှုမှာ၊ အနိုင်ထိန်းရ သောကြောင့်
မဟုတ်၊ မစင် ကြယ် သော စီးပွားကို တပ် မက်
သောကြောင့် မဟုတ်ဘဲ၊ အလိုလိုစေတနာစိတ်
၃ ရှိ၍ကြည်ညို့ရှုအုပ်ထိန်းကြလော့။- အသီးအသီး
အုပ်သော အသင်းတော်တို့ကို အာဏာထား၍
အစိုးတရပြုသည်မဟုတ်ဘဲ၊ သိုးတော်စုရှေ့မှာ
၄ ပုံ သက်သေကို ပြ သော သူ ဖြစ်ကြလော့။- သို့
ဖြစ် လျှင်၊ သိုး ထိန်း အ ကြီး ပေါ် ထွန်း တော် မူ
သော အခါ၊ သင် တို့ သည် မညှိုး မနွမ်း တတ်
သောဘုန်းကြီးသောပန်းဦးရစ်သရဖူကိုခံရကြ
လိမ့်မည်။
၅ ထိုနည်းတူ၊ အသက်ပျိုသောသူတို့၊ အသက်
ကြီးသောသူတို့၏စကားကိုနားထောင်ကြလော့။
ထိုမျှမက၊ အချင်းချင်း တယောက် အောက် တ
ယောက်နှိမ့်ချလျက်နေ၍၊ နှိမ့်ချခြင်းတန်ဆာကို
ဆင်ကြလော့။ အကြောင်းမူကား၊ ထောင်လွှား
စော်ကားသော သူတို့ကို ဘုရားသခင် ဆီးတား
တော်မူ၏။စိတ်နှိမ့်ချသောသူတို့အားကျေးဇူးပြု
၆ တော်မူ၏။- ထိုကြောင့်၊ ကာလအချိန်တန်လျှင်၊
ဘုရားသခင်သည်သင်တို့ကို ချီးမြှောက်တော်မူ
မည် အကြောင်း၊ တန်ခိုး ကြီးသော လက်တော်
၇ အောက်၌ ကိုယ်ကိုကိုယ်နှိမ့်ချကြလော့။- သင်

ထို့ကို သတိနှင့် ကြည့်ရှုတော်မူသောကြောင့်၊
သင်တို့၌ စိုးရိမ်ခြင်းအမှုရှိသမျှတို့ကို ကိုယ်
တော်၌အပ်နှံကြလော့။
၈ သမ္မာသတိရှိလျက် မအိပ်ဘဲ စောင့်နေကြ
လော့။ သင်တို့၏ရန်သူတည်းဟူသောမာရ်နတ်
သည်၊ ဟောက်သော ခြင်္သေ့ကဲ့သို့ အဘယ်သူ
ကိုမျိုရမည်နည်းဟူ၍ လှည့်လည် ရှာဖွေလျက်
၉ ရှိ၏။- သို့ဖြစ်၍၊ လူပြည်အရပ်ရပ်တို့၌ ရှိသော
သင်တို့ညီအစ်ကိုများတို့သည် ထိုသို့သောဆင်း
ရဲကိုခံရကြသည်ဟုသိမှတ်လျက်၊ယုံကြည်ခြင်း
၌တည်၍မာရ်နတ်ကိုဆီးတားကြလော့။
၁၀ ခရစ်တော်ယေရှုအားဖြင့် ငါတို့ကို ထာဝရ
ဘုန်းအသရေတော်သို့ ခေါ်တော်မူသော၊ ခပ်
သိမ်းသော ကျေးဇူးကို ပြုတော်မူသော ဘုရား
သခင်သည် ခဏ ဆင်းရဲခံပြီးသော သင်တို့ကို
စုံလင် တည်ကြည် ခိုင်ခံ့ မြဲမြံစေတော်မူလိမ့်
၁၁ မည်။-ထိုဘုရားသခင်သည်ကမ္ဘာအဆက်ဆက်
ဘုန်း၊ အသရေ အစွမ်း၊ သတ္တိ ရှိတော်မူစေသ
တည်း။ အာမင်။
၁၂ ငါသည် သင်တို့ကို တိုက်တွန်းသွေးဆောင်
လျက်၊ သင်တို့မှီဝဲဆည်းကပ်သောၤအရာများ
သည် ဘုရားသခင်၏ ကျေးဇူးတော်အမှန်ဖြစ်
သည်ဟု သက်သေခံလျက်၊ ဤစာကိုအကျဉ်း
အားဖြင့် ရေးပြီးမှ၊ ငါ့စိတ်ထင်သည် အတိုင်း
သင်တို့အဖို့၌ သစ္စာရှိသော ညီအစ်ကို သိလွာနု
၁၃ ထက်ဖြင့်ယခုပေးလိုက်၏။- သားမာကုမှစ၍
ဗာဗုလုန်မြို့၌ရှိသောသင်တို့နှင့်အတူ ရွေးချယ်
တော်မူသောအသင်းတော်သည်သင်တို့ကိုနှုတ်
၁၄ ဆက်ကြ၏။- အချင်းချင်း တယောက်ကို တ
ယောက် မေတ္တာနမ်းခြင်းနှင့် နှုတ်ဆက်ကြ
လော့။ခရစ်တော်နှင့်ဆိုင်သောသင်တို့အပေါင်း
၌ငြိမ်သက်ခြင်းရှိစေသတည်း။ အာမင်။

ရှင်ပေတရုဩဝါဒစာပဌမစောင်ပြီး၏။

---

# ရှင်ပေတရုဩဝါဒစာဒုတိယစောင်။

## THE SECOND EPISTLE OF PETER

---

၁

၁ ယေရှုခရစ်၏ကျွန်တမန်တော်ငါရှိမုန်ပေတရု
သည်ကယ်တင်တော်မူသောအရှင်၊ငါတို့ဘုရား
သခင်ယေရှုခရစ်၏ဖြောင့်မတ်ခြင်းတရားကို ငါ
တို့ ယုံကြည် သည်နည်းတူ၊ မြတ်စွာသော ယုံ
ကြည်ခြင်းကို ရသောသူတို့အား ကြားလိုက်ပါ
၂ ၏။-ဘုရားသခင်ကိုငှင်၊ငါတို့သခင်ယေရှုကိုငှင်၊
သိသောဉာဏ်အားဖြင့်၊ကျေးဇူးတော်နှင့်ငြိမ်
သက်ခြင်း၊သည်သင်တို့၌များပြားပါစေသော။
၃ ထိုသို့နှင့်အညီငါတို့ကို ဘုန်းတန်ခိုးတော်နှင့်
ခေါ်တော်မူသောဘုရားကိုသိသောဉာဏ်အား
ဖြင့်၊ ငါတို့အားအသက်ရှင်ခြင်း၊ ဘုရားဝတ်၌
မွေ့လျော်ခြင်းနှင့် စပ်ဆိုင်သော အရာရှိသမျှတို့
ကိုဘုရားတန်ခိုးတော်သည် ပေးသနားတော်မူ
၄ ပြီး-ထိုသို့သောအားဖြင့်လည်း၊အလွန်ကြီး၊မြတ်
၍အသိုးထိုက်သောဂတိများကိုငါတို့၌အပ်ပေး
တော်မူပြီ။အကြောင်းမူကား၊ထိုဂတိတော်များ
ကိုအမှီပြု၍သင်တို့သည်လောကီဘပ်မက်ခြင်း
အညစ်အကြေးနှင့် ကင်းလွတ်သဖြင့်၊ ဘုရား
ပကတိကို ဆက်ဆံရသောသူ ဖြစ်ကြမည်အ
၅ ကြောင်းတည်း။- ထိုသို့အလို့ငှါ၊ သင်တို့ သည်
ယုံကြည်ခြင်း၌ သီလကိုငှင်၊ သီလ၌ ပညာကို
၆ ငှင်၊-ပညာ၌ကာမဂုဏ်ချုပ်တည်းခြင်းကိုငှင်၊
ကာမဂုဏ် ချုပ်တည်းခြင်း၌ သည်းခံခြင်းကို
ငှင်၊ သည်းခံခြင်း၌ဘုရားဝတ်ကိုပြု၍မွေ့လျော်
၇ ခြင်းကိုငှင်၊- ထိုမွေ့လျော်ခြင်း၌ ညီအစ်ကို စုံ
မက်ခြင်းကိုငှင်၊ ညီအစ်ကိုစုံမက်ခြင်း၌ချစ်ခြင်း
မေတ္တာကိုငှင်၊အလွန်ကြိုးစားအားထုတ်၍ထပ်
၈ ဆင့်ကြလော့။- အကြောင်းမူကား၊ထိုပါရမီတို့
သည် သင်တို့၌ ရှိ၍ ကြွယ်ဝလျှင်၊ ငါတို့သခင်

ထေရှုခရစ်ကိုသိကျွမ်းခြင်း၌မပျင်းရိစေခြင်းငှါ
၎င်း၊ အကျိုးမဲ့မဖြစ်စေခြင်းငှါ၎င်းပြုပြင်တတ်ကြ
၉ ၏။- ထိုပါရမီနှင့်ကင်းသောသူမူကား၊ မျက်စိ
ကန်း၏။ ကိုယ်မျက်စိကိုကိုယ်ပိတ်၍မိမိအပြစ်
၁၀ ဟောင်းဆေးကြောကြောင်းကိုမေ့လျော့၏။- ထို
ကြောင့်၊ ညီအစ်ကိုတို့၊ သင်တို့ခံရသောခေါ်
တော်မူခြင်းနှင့်ရွေးချယ်တော်မူခြင်းကိုတည်မြဲ
စေခြင်းငှါ သာ၍ကြိုးစားအားထုတ်ကြလော့။
ထိုသို့ပြုလျှင်၊ ချော်လျော့ခြင်းနှင့်အစည်ကင်းလွတ်
၁၁ သည်ဖြစ်၍၊- ငါတို့ကိုကယ်တင်တော်မူသော
အရှင်သခင်ယေရှုခရစ်၏ ထာဝရနိုင်ငံတော်ထဲ
သို့ဝင်စားခြင်းအခွင့်ကို သင်တို့အားကြွယ်ဝ
စွာပေးသနားတော်မူလတံ့။
၁၂ ထိုကြောင့်၊ယခုဟောပြောသောသမ္မာတရား
ကိုသင်တို့သည် နားထည်၍ တည်ကြည်ခြင်းရှိ
သော်လည်း၊ ဤသို့သောစကားများနှင့် သင်တို့
အား အစည်မပြတ် သတိပေးမည့် အမှုကို ငါမ
၁၃ မေ့မလျော့။- ငါတို့သခင်ယေရှုခရစ်သည် ဗျာ
၁၄ ဒိတ်ပေးတော်မူသည်အတိုင်း၊ငါတည်းခိုရာတဲ
ကိုမကြာမမြင့်မှီ ငါပြစ်သွားရမည် အရာကိုငါ
သိမှတ်၍၊ဤတဲ၌ရှိနေစည်ကာလပတ်လုံး၊ သင်
တို့ကို သတိပေး၍ နှိုးဆော်အပ်သည်ဟု ငါသ
၁၅ ဘောရှိ၏။- ထိုမှတပါး၊ ငါစုတေ့သည်နောက်၊
သင်တို့သည် ဤအရာများကို အစည် မှတ်မိစေ
ခြင်းငှါငါကြိုးစားအားထုတ်မည်။
၁၆ ငါတို့သခင်ယေရှုခရစ်၏တန်ခိုးတော်ကို၎င်း၊
ကြွလာတော်မူခြင်းကို၎င်း၊ သင်တို့အား ကြား
ပြောသောအခါ၊ ငါတို့သည် ပရိယာယ်နှင့်ပြင်
ဆင်သောဒဏ္ဍာရီစကားကိုမလိုက်၊ဘုန်းအာနု
ဘော်တော်ကိုကိုယ်တိုင်မြင်သောသူဖြစ်ကြ၏။-
၁၇ အဘယ်သို့နည်း၊ ဟူမူကား၊ ဤသူသည်ငါနှစ်
သက်မြတ်နိုးရာ၊ ငါ၏ချစ်သားပေတည်း ဟူ
သောအသံတော်သည်၊ ထူးမြတ်သောအရောင်
အဝါတော်ထဲက၊ ထိုသခင်သို့ရောက်သောအ
ခါ၊ ခမည်းတော်ဘုရားသခင်အထံတော်မှ ဂုဏ်
အသရေ၊ ဘုန်းအာနုဘော်ကို ခံရတော်မူ၏။-
၁၈ ကောင်းကင်ကရောက်လာသော ထိုအသံတော်
ကိုငါတို့သည် သန့်ရှင်းသော တောင်ပေါ်မှာသ
ခင်ဘုရားနှင့်အတူရှိသောအခါကြားရကြ၏။
၁၉ ထိုမှတပါး၊ သာ၍မြဲမြံသောအနာဂတ္တိစကား
တော်သည် ငါတို့၌ရှိသေး၏။ စိတ်နှလုံးထဲ၌
အာရုဏ်ဟက်၍ ကြယ်နီပေါ်ထွက်သည်ကာ
လတိုင်အောင်၊ ထိုအနာဂတ္တိစကားတော်ကို
မှောင်မိုက်အရပ်၌ထွန်းလင်းသောဆီမီးကဲ့သို့
၂၀ မှတ်၍၊ သင်တို့သည်အမှီပြုသင့်ကြ၏။- ကျမ်း
စာ၌ပါသောအနာဂတ္တိစကား၊ မည်သည်ကား၊
ကိုယ်အလိုအလျောက် အနက်မပေါ်ဟုရှေ့ဦးစွာ
၂၁ သိမှတ်ကြလော့။-အကြောင်းမူကား၊အနာဂတ္တိ
စကားသည် လူအလိုအားဖြင့် ဖြစ်ဘူးသည်မ
ဟုတ်။ ဘုရားသခင်၏ သန့်ရှင်းသူတို့သည်သန့်
ရှင်းသော ဝိညာဉ်တော်၏ တိုက်တွန်းတော်မူ
ခြင်းကိုခံရ၍ဟောပြောကြ၏။

## ၂

၁ သို့သော်လည်း၊ ထိုလူတို့တွင် မိစ္ဆာပရော
ဖက်ရှိကြ၏။ ထိုနည်းတူ၊ ဖျက်ဆီးတတ်သော
မိစ္ဆာဒိဋ္ဌိအယူများကိုပရိယာယ်အားဖြင့်သွင်း
၍၊မိမိတို့ကိုဝယ်တော်မူသောအရှင်ကိုငြင်းပယ်
လျက်၊ မိမိတို့အပေါ်သို့ လျင်စွာသော ဖျက်ဆီး
ခြင်းကို ရောက်စေသောမိစ္ဆာဆရာတို့သည်သင်
၂ တို့တွင် ရှိကြလိမ့်မည်။- သူတို့ညစ်ညူးသောအ
ကျင့်ဓလေ့တို့ကို အများသောသူတို့သည် လိုက်
သောအားဖြင့်သမ္မာတရားလမ်းအသရေသည်
၃ ဖျက်စီးလိမ့်မည်။-သူတို့သည်လောဘလွန်ကျူး
လျက် ချော့မော့သောစကားနှင့် သင်တို့ကို ကုန်
သွယ်ကြလိမ့်မည်။ သူတို့အပြစ်စီရင်ခြင်းသည်
ရှေးကာလမှစ၍ မဖင့်မနွဲ၊ သူတို့ဖျက်ဆီးခြင်း
သည်လည်းအိပ်၍မပျော်။
၄ အကြောင်းမူကား၊ ပြစ်မှားသောကောင်းကင်
တမန်တို့ကိုဘုရားသခင်သည်နှစ်မြောတော်မမူ။
ငရဲထဲသို့ နှင်လိုက်ပြီးမှ စစ်ကြောစီရင်ခြင်းအ
လို့ငှါချုပ်ထား၍၊ မှောင်မိုက်သံကြိုးနှင့်ချည်
၅ နှောင်တော်မူ၏။- ရှေးလောကဓာတ်ကိုလည်း
နှစ်မြောတော်မမူ။ ဖြောင့်မတ်ခြင်းတရားကို
ဟောသောနောဧနှင့် လူရှစ်ယောက်တို့ကို
စောင့်မတော်မူ၍၊ ဘုရားကိုမကိုးကွယ်သော
လောကီသားအပေါင်းတို့ကို ရေလွှမ်းမိုးစေ
၆ တော်မူ၏။- သောဒုံမြို့နှင့်ဂေါမောရမြို့တို့ကိုမီး
နှို၍ဖျက်ဆီးရာ၊ဒါဏ်စီရင်တော်မူသဖြင့်နောင်
၌မတရားသောအကျင့်ကိုကျင့်အံ့သောသူတို့
၇ အားပုံသက်သေကိုထားတော်မူ၏။- ထိုအခါမ
တရားသောသူတို့၏ညစ်ညူးသောအကျင့်အား
ဖြင့်နှောင့်ရှက်ခြင်းကိုခံရသောသူ၊ ဖြောင့်မတ်
၈ သောလောတကိုကယ်နှုတ်တော်မူ၏။-ထိုဖြောင့်
မတ်သောသူသည်မတရားသောသူတို့တွင်နေ

စည်အခါ၊ သူတို့၏မတရားသောအမှုများကိုနေ့
တိုင်းမပြတ်မျက်မြင်ကြားလျှက်၊ နားကြားလျှက်နှ
သဖြင့်၊ မိမိဖြောင့်မတ်သောစိတ်နှလုံးကိုပြင်း
၉ စွာညှဉ်းဆဲရ၏။- ဘုရားဝတ်၌မွေ့လျော်သော
၁၀ သူတို့ကို စုံစမ်း၊ နှောင့်ရှက်ခြင်း၊ အထဲက ကယ်
နှုတ်ခြင်းငှါ၎င်း၊ မတရားသော သူတို့ကိုဒဏ်ခံ
စေမည်အကြောင်း၊ ညစ်ညူးသောတပ်မက်ခြင်း
ရှိသေသာနှင့်တကွ၊ ကာမဂုဏ်အလိုသို့လိုက်
၍၊ အာဏာစက်ကို မထီမဲ့မြင် ပြုသော သူတို့ကို
အထူးသဖြင့်ဒဏ်ခံစေမည်အကြောင်း၊ တရား
ဆုံးဖြတ်သောနေ့အဖို့ချုပ်ထားခြင်းငှါ၎င်း၊ ထာ
ဝရဘုရား သည် တတ်နိုင်တော် မူ၏။ ထိုသူ တို့
သည် ရဲရင့်သောသူ၊ ကိုယ်အလိုသို့လိုက်တတ်
သော သူ ဖြစ် ၍၊ ဘုန်း တန်ခိုး ကြီး သောသူတို့
၁၁ ကိုကဲ့ရဲ့ဝံ့ကြ၏။- ကောင်းကင်တမန်တို့ မူကား၊
သူတို့ ထက် ခွန်အား တန်ခိုး ကြီး သော်လည်း၊
ထာဝရ ဘုရား ရှေ့ တော်၌ သူ တို့အား ကဲ့ရဲ့ စွာ
၁၂ သော ပြစ် တင်ခြင်း ကို မပြု ကြ။- သူတို့ မူကား၊
ဖမ်း၍ ဖျက်ဆီး ခြင်းငှါ ဇာတိ ဓမ္မတာ ဖြစ်သော ယုတ်ညံ့ရှည်
သတ်သတ်ကဲ့သို့၊ မိမိတို့နားမလည်သောအရာ
ကို ကဲ့ရဲ့ လျှက်၊ မိမိတို့ ပုပ်ပျက် သော အားဖြင့်
အကုန်အစင် ပျက်စီးခြင်း သို့ရောက်၍၊ မတရား
၁၃ သော အမှု၏ အပြစ်ကို ခံရ ကြ လိမ့် မည်။- နေ့
အချိန် ၌ပင် လွန်ကျူး စွာ ကာမဂုဏ် ခံစားခြင်း
အမှုသည်ပျော်မွေ့ရာဖြစ်သည်ဟုသူတို့သဘော
ရှိ၏။ သင်တို့ နှင့်အတူ စားသောက်ပွဲ လုပ်သော
အခါမိမိတို့မှားယွင်းသောသဘောနှင့်လွန်ကျူး
စွာကာမဂုဏ်ခံစား၍၊သင်တို့၌အညစ်အကြေး
၁၄ အစွန်းအကွက်ဖြစ်ကြ၏။-သူတို့သည်သူမယား
ကို ဖြစ် မှား သော ကိလေသာ နှင့် ပြည့်စုံ သော
မျက်စိရှိ၍၊ဒုစရိုက်ကိုမပြုဘဲမနေနိုင်ကြ။ စိတ်
နှလုံး မတည် ကြည် သော သူ တို့ ကို အပြစ်သို့
သွေးဆောင်တတ်ကြ၏။လောဘလွန်ကျူးခြင်း
၌ကျင်လည်၍၊ ကျိန်တော်မူခြင်း၏သားဖြစ်ကြ
၁၅ ၏။-ဖြောင့်မတ်သောလမ်းထဲကထွက်၍လွဲသွား
သဖြင့်၊ ဗောသော်၏သားဗာလံ၏လမ်းကိုလိုက်
၁၆ ကြ၏။- ထိုဗာလံသည်မတရားသောအမှု၏အခ
ကိုတပ်မက်၍၊ မိမိဒုစရိုက်အတွက်ကြောင့်ဆုံးမ
ခြင်းကိုခံရ၏။အဘယ်သို့နည်းဟူမူကား၊စကား
မပြော နိုင် သော မြည်းသည် လူ အာ သာ အားဖြင့်
မြွက်၍၊ ထိုပရောဖက်၏မိုက်မဲခြင်းကိုမြစ်တား
လေ၏။

၁၇ ထိုသူတို့သည်ရေမရှိသောရေတွင်းကဲ့သို့၎င်း၊
လေတိုက်၍ လွင့်သောမိုဃ်းတိမ်ကဲ့သို့၎င်း ဖြစ်
ကြ၏။ သူတို့အဖို့ တခဲနက်သော ထာဝရ မှောင်
၁၈ မိုက်ကိုသိုထားလျှက် ရှိ၏။-အကြောင်းမူကား၊
မှားယွင်းခြင်း၌ ကျင်လည်သော သူတို့ထဲက
ပြေးထွက်လုသောသူတို့ကို၊ ထောင်လွှားသော
အချည်းနှီး စကားပြောသည်နှင့်၊ ဇာတိပကတိ
တပ်မက်ခြင်း၊ ကိလေသာ လွန်ကျူးခြင်း အား
၁၉ ဖြင့် အပြစ်သို့ သွေးဆောင် တတ်ကြ၏။- လွတ်
ခြင်းအခွင့်ရှိသည်ဟုဝန်ခံလျှက်ပင်၊ ကိုယ်တိုင်
ပုပ်ပျက်ခြင်း၏ကျွန်ဖြစ်ကြ၏။အဘယ်သို့နည်း
ဟူမူကား၊လူကိုနိုင်သောအရာသည်လူ၏သခင်
၂၀ ဖြစ်၏။-ကယ်တင်တော်မူသောအရှင်သခင်ယေ
ရှုခရစ်ကိုသိကျွမ်းခြင်းအားဖြင့်၊ လောကီညစ်
ညူးခြင်းနှင့် ကင်းလွတ်ပြီးမှ၊ တဖန် ကျော့မိ၍
ရှုံးလျှင်၊ နောက်ဖြစ်တန်သည်ရှေးဖြစ်တန်ထက်
၂၁ သာ၍ဆိုး၏။- ဖြောင့်မတ်ခြင်း တရားလမ်းကို
သိ၍၊ မိမိခံခဲ့ပြီးသော သန့်ရှင်းသောပညတ်ကို
တဖန်စွန့်ပြစ်သည်ထက်၊ ထိုလမ်းကိုမသိဘဲနေ
၂၂ သော်သာ၍ကောင်း၏။- ခွေးသည် မိမိအန်ဖတ်
ကိုပြန်၍စား၏။ ဝက်သည်ထည်း ဆေးပြီးမှ ရွှံ့
တွင်လူးပြန်၏ဟု၊ မှန်သောစကားပုံသည်ထိုသူ
တို့၌ပြည့်စုံသတည်း။

၃

၁ ချစ်သူတို့၊ဤဒုတိယဩဝါဒစာကိုသင်တို့အား
၂ ယခုငါရေး၍ပေးလိုက်၏။သန့်ရှင်းသောပရော
ဖက်တို့သည်၊အထက်ကဟောပြောသောစကား
များကို၎င်း၊ ကယ်တင်တော်မူသောအရှင်သခင်
ဘုရား၏တမန်တော်ဖြစ်သောငါတို့၏ပညတ်ကို
၎င်း၊သင်တို့သည်အောက်မေ့စေခြင်းငှါ၊ဤစာနှစ်
စောင်၌ သင်တို့၏ ကြည်ဖြူသော စိတ်ဝိညာဉ်ကို
၃ ကိုငါသတိပေး၍နိုးဆော်၏။- ရှေ့ဦးစွာသိမှတ်
အပ်သောအရာဟူမူကား၊နောက်ဆုံးသောကာ
လ၌ပျက်ရယ်ပြုတတ်သော သူတို့သည်၊ မိမိတို့
၄ တပ်မက်ခြင်းအတိုင်း ကျင့်နေ၍၊- သခင်ဘုရား
ကြွလာမည် ဟူသော ဂတိတော်သည် အဘယ်
မှာ ရှိ သနည်း။ ဘိုး ဘေး များ အိပ် ပျော် သည်
နောက်၊ ခပ်သိမ်းသောအရာတို့သည်ဖန်ဆင်းစ
ကဖြစ်သကဲ့သို့၊ ဖြစ်မြဲဖြစ်ကြ၏ဟုဆိုလျှက်၊ ကဲ့
၅ ရဲ့ခြင်းနှင့်တကွပေါ်လာကြလိမ့်မည်။-ရှေးကာ
လ၌မိုဃ်းကောင်းကင်ကို၎င်း၊ရေထဲကထွက်၍
ရေဖြင့်တည်သောမြေကြီးကို၎င်း၊ဘုရားသခင်၏

နှုတ်ကပတ်တော်သည် ဖြစ်စေတော်မူကြောင်း
၆ နှင့်၊– ဖြစ်ဘူးသောလောကဓာတ်ကိုထိုသို့အား
ဖြင့်ရေနှင့် လွှမ်းမြုပ်၍ ဖျက်ဆီးကြောင်းကို ထို
၇ သူတို့သည် မှတ်မိချင်သောစိတ်မရှိကြ။– ယခုရှိ
သောမိုဃ်းကောင်းကင်နှင့် မြေကြီးမူကား၊ တ
ရားဆုံးဖြတ်၍၊ အဓမ္မလူတို့ကိုဖျက်ဆီးသောနေ့
ရက်တိုင်အောင်၊ ထိုနှုတ်ကပတ်တော်အားဖြင့်
သိုထားလျက်ရှိ၍၊ မီးရှို့ခြင်း အမှို့အလို့ငှါ နေ
ရစ်သတည်း။
၈ ချစ်သူတို့၊ ထာဝရဘုရားမှာ ကာလ တ ရက်
သည်၊ အနှစ် တ ထောင် ကဲ့ သို့ ၎င်း၊ အနှစ်တ
ထောင်သည်တရက်ကဲ့သို့၎င်းဖြစ်သည်အရာတ
၉ ခုကိုမမေ့လျော့ကြနှင့်၊– လူအချို့တို့သည်၊ နှေး
ခြင်းကို မှတ်သည်အတိုင်း၊ ထာဝရဘုရားသည်
ဂတိတော်အရာမှာ နှေးတော်မမူ။ ငါတို့တွင်အ
ဘယ်သူမျှမပျက်စီးဘဲ၊ ရှိသမျှတို့သည်နောင်တ
ရစေခြင်းငှါ အလိုတော်ရှိ၍၊ ငါတို့ကိုသည်းခံ
၁၀ တော်မူ၏။– သူခိုးသည်ညည့်အခါလာသကဲ့သို့၊
ထာဝရဘုရား၏နေ့ရက်သည်လာလိမ့်မည်။ ထို
နေ့၌မိုဃ်းကောင်းကင်သည်ကြီးစွာသောအသံ
နှင့်တကွ ပျောက်သွားလိမ့်မည်။ လောကဓာတ်
တို့သည်ပူအားကြီး၍ပျက်ကြလိမ့်မည်။ မြေကြီး
ကိုယ်မှစ၍၊ မြေကြီးပေါ်မှာ ပြုလုပ် သမျှသော
အရာတို့သည်ကျွမ်းလောင်ကြလိမ့်မည်။
၁၁ သို့ဖြစ်၍၊ ဤအရာ အလုံးစုံတို့သည် ကုန်စင်
၁၂ မည်မှန်သောကြောင့်၊ မိုဃ်းကောင်းကင်သည်
မီးနှင့်ပျက်၍ လောကဓာတ်တို့သည်ပူအားကြီး
လျက်၊ အရည်ကြို ခြင်းကိုခံရသောနေ့တည်းဟူ
သော၊ ဘုရား သခင်၏ နေ့ရောက်လိမ့်မည် ဟု၊
သင်တို့သည်မျှော်လင့်တောင့်တလျက်၊ သန့်ရှင်း
သော အကျင့် ကို ကျင့် ခြင်း၊ ဘုရား ဝတ် ၌ မွေ့

လျော် ခြင်း အားဖြင့်၊ အဘယ် သို့သော သူဖြစ်
၁၃ အပ်ကြသနည်း။– ယခု ရှိသမျှ သော အရာတို့
သည်ပျက်ရသော်လည်း၊ ဖြောင့်မတ်ခြင်းတရား
တည်နေရာ မိုဃ်း ကောင်းကင်သစ်နှင့် မြေကြီး
သစ် ကို ငါ တို့သည် ဂတိတော် နှင့် အညီ မျှော်
လင့်ကြ၏။
၁၄ ထိုသို့မျှော်လင့်ခြင်းရှိ သောကြောင့်၊ ချစ်သူ
တို့၊ သင်တို့သည်အညစ်အကြေးနှင့်ကင်းစင်၍
အဘယ် အပြစ်မျှ မပါဘဲ၊ ရှေ့တော်သို့ငြိမ်ဝပ်
စွာရောက်မည်အကြောင်း ကြိုးစား၊ အားထုတ်
၁၅ ကြလော့။– ငါတို့ချစ်သောညီပေါလုသည်၊ မိမိခံ
ရသော ဉာဏ်ပညာအတိုင်း သင်တို့အားရေး
၍ပေးလိုက်သောစာ၌၎င်း၊ သူသည်ဤအရာများ
ကိုပြော၍ စီရင်သောဩဝါဒစာ ရှိသမျှတို့၌၎င်း
ပါသည် နှင့် အညီ၊ ငါတို့ သခင်ဘုရား သည်းခံ
တော်မူခြင်းသည်ကယ်တင်မည်အကြောင်းဖြစ်
၁၆ သည်ဟုမှတ်ကြလော့။– ထိုစာတို့၌ ခက်ခဲသော
အရာ အချို့ ရှိ၏။ မတတ်သောသူ၊ တည် ကြည်
ခြင်းမရှိသောသူ တို့သည်၊ ထိုအရာမှစ၍ ကြွင်း
သောကျမ်းစာ၏အနက်ကိုမှောက်လှန်၍၊ ကိုယ်
ကိုကိုယ် ဖျက်ဆီးတတ်ကြ၏။
၁၇ သို့ဖြစ်၍၊ ချစ်သူတို့၊ မတရား သော သူတို့၏
ပရိယာယ် အားဖြင့်၊ သင်တို့သည်လည်း သွေး
ဆောင်ရာသို့ လိုက်၍၊ သင်တို့ တည်ကြည်ခြင်း
မှ မရွေ့လျော့မည်အကြောင်း၊ ဤအရာ များကို
သိနှင့်ပြီဖြစ်၍၊ ကိုယ်ကိုကိုယ် စောင့်ရှောက်ကြ
၁၈ လော့။– ကျေးဇူးတော်၌၎င်း၊ ငါတို့ကိုကယ်တင်
တော်မူသောအရှင်သခင်ယေရှုခရစ်ကိုသိကျွမ်း
ခြင်း၌၎င်းကြီး၊ ပွားကြလော့။ ထိုအခင်သည်ယခု
မှစ၍ထာဝရနေ့ရက်ကာလပတ်လုံး ဘုန်းအသ
ရေရှိတော်မူစေသတည်း။ အာမင်။

ရှင်ပေတရုဩဝါဒစာဒုတိယစောင်ပြီး၏။

# ရှင်ယောဟန်ဩဝါဒစာပဌမစောင်။

## THE FIRST EPISTLE OF JOHN.

၁

၁ ရှေဦးစွာကပင်ဖြစ်၍၊ ငါတို့သည်ကိုယ်ဘိုင်
ကြားလျှက်၊ ကိုယ်မျက်စိနှင့် မြင်လျက်၊ စေ့စေ့
ကြည့်ရှု၍ လက်နှင့် စမ်းသပ်ခဲ့ပြီးသော အရာ
တည်းဟူသော၊ အသက် ရှင်သော နှုတ်ကပတ်
တော် နှင့် ဆိုင် သော အရာ ကို သင် တို့ အား ပြ
၂ သကြ၏။- ထိုအသက်သည်ထင်ရှားခဲ့ပြီ၊ ငါတို့
သည်းမြင်ရကြပြီ၊ ခမည်းတော်နှင့်အတူရှိဘူး
၍၊ ငါတို့အားထင်ရှားခဲ့ပြီးသောထိုထာဝရအ
သက်ကို၊ ငါတို့သည် သင်တို့အားသက်သေခံ၍
၃ ပြသကြ၏၊-ငါတို့သည်ခမည်းတော်နှင့်၎င်း၊သား
တော်ယေရှုခရစ်နှင့်၎င်း၊မိဿဟာယဖွဲ့ရသည်
ဖြစ်၍၊ သင်တို့သည် ငါတို့နှင့်မိဿဟာယဖွဲ့စေ
ခြင်းငှါ၊ ငါတို့ကြားမြင်ရသောအရာကို သင်တို့
၄ အားပြသကြ၏။- သင်တို့၏ဝမ်းမြောက်ခြင်းအ
ကြောင်းစုံလင်စေခြင်းငှါလည်း၊ဤအရာများကို
ငါတို့သည်ရေးလိုက်ကြ၏။
၅ ထို နှုတ်ကပတ် တော်ထံ၌ ငါတို့ သည် ကြား
ရ၍၊ သင်တို့အား ပြသသောတရားစကားဟူမူ
ကား၊ ဘုရားသခင်သည် အလင်းဖြစ်တော်မူ၏။
၆ ဘုရားသခင်၌ မှောင်မိုက် အလျှင်း မရှိ။- ငါတို့
သည် ဘုရားသခင်နှင့် မိဿဟာယ ဖွဲ့ပြီဟုဆို
လျက်ပင်၊ မှောင်မိုက် ၌ ကျင်လည်လျှင်၊ သစ္စာ
တရားကို မကျင့်၊ မုသာကို သုံးသော သူ ဖြစ်ကြ
၇ ၏။- ဘုရားသခင် သည် အလင်း ၌ ရှိတော်မူသ
ကဲ့သို့၊ ငါ တို့သည် အလင်း၌ ကျင်လည် လျှင်၊
အချင်းချင်း မိဿဟာယ ဖွဲ့ခြင်း ရှိကြသည် ဖြစ်
၍၊ ဘုရားသခင် ၏ သားတော် ယေရှုခရစ်၏ အ
သွေး တော်သည်၊ ငါတို့အပြစ် ရှိသမျှ ကို ဆေး
၈ ကြော တော် မူ ၏။- ကိုယ် အပြစ် မ ရှိ ဟု ငါ တို့
သည် ဆိုလျှင်၊ ကိုယ်ကိုကိုယ် လှည့်ဖြားကြ၏၊
၉ ငါတို့၌ သစ္စာ တရား မရှိ။- ကိုယ် အပြစ် တို့ကို
ဖော်ပြ တောင်းပန် လျှင်၊ ငါတို့ အပြစ် များ ကို
လွှတ်၍ ဒုစရိုက် ရှိသမျှ နှင့် ကင်းစင် စေခြင်း ငှါ
ဘုရားသခင်သည် သစ္စာ တရားနှင့်၎င်း၊ ဖြောင့်
၁၀ မတ်ခြင်း တရားနှင့် ၎င်း ပြည့်စုံ တော် မူ၏။- ဒုစ
ရိုက်ကို မပြု ပြီဟု ငါ တို့ သည် ဆိုလျှင်၊ ဘုရား
သခင် ကို မုသာ အပြစ် တင် ကြ၏၊ နှုတ်ကပတ်
တော်လည်း ငါတို့၌မရှိ။

၂

၁ ချစ်သားတို့၊ သင်တို့သည် ဒုစရိုက်ကို မပြုစေ
ခြင်းငှါ ဤအရာများကိုသင်တို့အားငါရေး၍ပေး
လိုက်၏၊ တစုံတယောက်သောသူသည်ဒုစရိုက်
ကို ပြုမိလျှင်၊ ဖြောင့် မတ် တော် မူ သော အရှင်
ယေရှုခရစ် တည်း ဟူသော၊ ငါတို့အမှုဆောင်
၂ သခင်သည်ခမည်းတော်ထံ၌ ရှိတော်မူ၏။- ထို
သခင်သည်ငါတို့၏အပြစ်မက၊လောကီသားအ
ပေါင်းတို့၏အပြစ်ဖြေစရာ အကြောင်းဖြစ်တော်
၃ မူ၏။- ထိုသခင်ကို ကိုယ်တိုင် သိကျွမ်းသည်ကို
အဘယ်သို့သိရသနည်းဟူမူကား၊ပညတ်တော်
၄ တို့ကို စောင့် ရှောက် လျှင် သိ ရသတည်း။- ထို
သခင်ကိုငါသိ၏ဟု၊ ပညတ်တော်တို့ကိုမစောင့်
ဘဲလျက် ဆိုသောသူသည် မုသာကိုသုံးသောသူ
၅ ဖြစ်၍ထိုသူ၌သစ္စာမရှိ။-ထိုသခင်၏စကားတော်
ကိုနားထောင် သောသူ မည်သည်ကား၊ ဘုရား
သခင်ကိုချစ်ခြင်းမေတ္တာနှင့်အမှန်ပြည့်စုံ၏၊ ငါ
တို့သည် ထိုသခင်၌ရှိကြောင်းကိုထိုသို့အားဖြင့်
၆ သိရကြ၏။- ထိုသခင်၌ငါတည်၏ဟုဆိုသောသူ
သည်၊ ထိုသခင် ကျင့်တော်မူသည်နည်းတူကျင့်
ရမည်။
၇ ချစ်သူတို့၊သင်တို့အားငါရေးထားသောပညတ်
သည် ပညတ် သစ် မ ဟုတ်။ ရှေ ဦး စွာ က ပင်
သင်တို့၌ ရှိသောပညတ်ဟောင်းဖြစ်၏။ ပညတ်
ဟောင်းကား၊ ရှေဦး စွာကပင် သင် တို့ ကြားရ
၈ သော ဒေသနာတော်ဖြစ်၏။- တဖန်တုံ၊ ပညတ်
သစ်ကို သင် တို့ အား ငါရေး ထား၏။ ထိုသခင်
အားဖြင့်၎င်း၊ သင်တို့အားဖြင့်၎င်းအသစ်မှန်ပေ
၏။ အကြောင်းမူကား၊ မှောင်မိုက် ပျောက်လွင့်
၍၊ မှန်သောအလင်းသည်ထွန်းတောက်လျှက်
၉ ရှိ၏။-မိမိညီအစ်ကိုကိုမုန်းလျှက်ပင်၊ငါသည်အ
လင်း၌ရှိ၏ဟုဆိုသောသူသည်၊ယခုတိုင်အောင်
၁၀ မှောင်မိုက် ၌ရှိ သေး ၏။- မိမိ ညီအစ်ကိုကို ချစ်
သော သူသည် အလင်း၌ တည်နေ၏။ ထိုမိမိ၌လဲ
၁၁ စရာအကြောင်းအစဉ်ထိုသူ၌မရှိ။- မိမိညီအစ်ကို

ကို မုန်းသောသူသည် မှောင်မိုက်၌ရှိ၏၊ မှောင်
မိုက်၌လည်းကျင်လည်သွားလာ၏၊ မှောင်မိုက်
ကြောင့် သူ၏မျက်စိမမြင်နိုင်သဖြင့်၊ အဘယ်အ
ရပ် သို့ ကိုယ် သွား သည် ကို ကိုယ်မသိ။
၁၂ ချစ်သားတို့၊ သင် တို့ သည် ထို သခင်၏ နာမ
တော်အားဖြင့် အပြစ်များနှင့် ကင်းလွတ်သော
ကြောင့်၊ သင် တို့ အား ငါရေး၍ ပေး လိုက်၏။-
၁၃ အဘတို့၊ သင်တို့သည် ရှေးဦးစွာ ကပင်ရှိတော်မူ
သောသူကိုသိသောကြောင့်၊သင်တို့အားငါရေး
၍ပေးလိုက်၏။လူပျိုတို့၊သင်တို့သည်မာရ်နတ်ကို
အောင်သောကြောင့်၊သင်တို့အားငါရေး၍ပေး
လိုက်၏။သူငယ်တို့၊ သင်တို့သည်ခမည်းတော်
ကိုသိသောကြောင့်၊ သင်တို့အား ငါရေး၍ ပေး
၁၄ လိုက်၏။-အဘတို့၊ သင်တို့သည်ရှေးဦးစွာကပင်
ရှိတော် မူသော သူကို သိသော ကြောင့်၊ သင်တို့
အား ငါရေး၍ ပေးလိုက်ခဲ့ပြီ။ လူပျိုတို့၊ သင်တို့
သည်ခွန်အားနှင့်ပြည့်စုံ၍၊ဘုရားသခင်၏နှုတ်
ကပတ်တော်၌မှီဝဲဆည်းကပ်သဖြင့်မာရ်နတ်ကို
အောင်သောကြောင့်၊ သင်တို့အား ငါရေး၍ပေး
၁၅ လိုက်ခဲ့ပြီ။-လောကကိုငှင်၊လောက၌ရှိသောအ
ရာတို့ကိုငှင် မချစ်ကြနှင့်။ လောကကို ချစ်သော
သူမည်သည် ကား၊ ခမည်း တော်ကို ချစ် ခြင်း
၁၆ မေတ္တာမရှိ။-လောက၌ရှိသမျှသောအရာတည်း
ဟူသော၊ ကိုယ်ကာယ တပ်မက် ခြင်း၊ မျက်စိ
တပ်မက်ခြင်း၊ လောကီစည်းစိမ်၌ဝါကြွားခြင်း
တို့သည် ခမည်းတော် နှင့် မစပ်ဆိုင်၊ လောက
၁၇ နှင့်သာစပ်ဆိုင်ကြ၏။-လောကနှင့်လောကီတပ်
မက်ခြင်း သည် ရွေ့သွား ကွယ်ပျောက်တတ်၏။
ဘုရားသခင်၏ အလိုတော်နှင့် အညီ ကျင့်သော
သူမူကား၊နိစ္စထာဝရတည်၏။
၁၈ ချစ်သားတို့၊ယခုကာလသည်နောက်ဆုံးသော
ကာလဖြစ်၏။ခရစ်တော်၏ရန်သူတည်းဟူသော
အန္တိခရစ် ပေါ်လာ ကြောင်း ကို သင်တို့ ကြားရ
သည်အတိုင်း၊ယခုပင်အန္တိခရစ်အများရှိကြ၏။
ထို ကြောင့်၊ ယခုကာလ သည် နောက်ဆုံးသော
၁၉ ကာလဖြစ်သည်ကိုသိရ၏။-ထိုသူတို့သည်ငါတို့
ထံမှထွက်သွားကြ၏၊ သို့သော်လည်း၊ အထက်
ကငါတို့နှင့်မစပ်ဆိုင်ကြ၊ငါတို့နှင့်စပ်ဆိုင်လျှင်၊
ငါတို့နှင့်အတူ နေကြလိမ့်မည်။ ထိုသူအပေါင်း
တို့သည် ငါတို့နှင့်မစပ်ဆိုင်ကြောင်းကို ထင်ရှား
၂၀ စေခြင်းငှါ၊ငါတို့ထံမှထွက်သွားကြ၏။- သင်တို့
သည် သန့်ရှင်း တော် မူ သော ဘုရား၏ ထက်မှ

ဘိသိတ် ကျေးဇူး တော် ကို ခံ ရ ၍၊ ခပ် သိမ်း
၂၁ သောအရာတို့ကိုသိကြ၏။- သမ္မာတရားကိုသင်
တို့မသိသောကြောင့်၊ ငါရေး၍ ပေးလိုက်သည်
မဟုတ်။ သင်တို့သည်သမ္မာတရားကိုငှင်၊ မုသာ
ရှိသမျှတို့သည် သမ္မာတရားနှင့်မစပ်ဆိုင်သည်
ကိုငှင် သိသောကြောင့် ငါရေး၍ ပေးလိုက်၏။-
၂၂ မုသာကို သုံးသော သူကား အဘယ် သူနည်း။
ယေရှု သည် ခရစ် တော် မဟုတ်ဟု၊ ငြင်း ပယ်
သော သူဖြစ် သတည်း။ ခမည်းတော်နှင့် သား
တော်ကို ငြင်းပယ်သော သူသည် အန္တိခရစ်ဖြစ်
၂၃ ၏။- သားတော်ကိုငြင်းပယ်သောသူမည်သည်
ကား၊ ခမည်းတော်ကိုမသိ။သားတော်ကိုဝန်ခံ
သောသူမည်သည်ကား၊ခမည်းတော်ကိုသိ၏။-
၂၄ ထိုကြောင့်၊ သင်တို့သည်ရှေးဦးစွာကပင်ကြားရ
သောဒေသနာကိုသင်တို့၌တည်စေကြလော့။ ထို
ဒေသနာသည်သင်တို့၌တည်လျှင်၊သင်တို့သည်
သားတော်၌ငှင်၊ ခမည်းတော်၌ငှင် တည်ရကြ
လိမ့်မည်။
၂၅ ငါတို့အားပေးတော်မူသောဂတိတော်မူကား၊
ထာဝရအသက်ကိုဝန်ခံတော်မူသောဂတိတော်
၂၆ ပေတည်း။- သင်တို့ကိုလှည့်ဖြားသောသူတို့၏အ
ကြောင်းကိုဤသို့သင်တို့အားငါရေး၍ပေးလိုက်
၂၇ ၏။-သို့သော်လည်း၊သန့်ရှင်းတော်မူသောဘုရား
၏ထက်မှ သင်တို့ ခံရ သော ဘိသိတ် ကျေးဇူး
တော်သည် သင်တို့၌ရှိသည်ဖြစ်၍၊ အဘယ်သူ
မျှ သင်တို့ကို ဆုံးမဩဝါဒပေးစရာ အကြောင်းမ
ရှိ။ ထိုဘိသိတ်ကျေးဇူး တော်သည် ဖြစ်ရောင်
ဆောင်သည် မဟုတ်၊ အမှန်ဖြစ်လျက် ခပ်သိမ်း
သောအရာတို့ကို သင်တို့အား သွန်သင် တော် မူ
သည်အတိုင်း၊သင်တို့သည်သားတော်၌တည်နေ
၂၈ ကြလော့။- ချစ်သားတို့၊သားတော်သည်ထင်ရှား
ပေါ်ထွန်းတော်မူသော အခါ၊ ငါတို့သည် အထံ
တော်သို့ ရောက် လျှင်၊ ရဲရင့် ရသော အခွင့်ရှိ၍၊
ရှက်ကြောက်ခြင်းနှင့်ကင်းလွတ်မည်အကြောင်း
သားတော်၌တည်နေကြလော့။
၂၉ ဘုရားသခင်သည်ဖြောင့်မတ်တော်မူသည်ကို
သင်တို့သည်သိလျှင်၊ ဖြောင့်မတ်ခြင်းတရားကို
ကျင့်သော သူမည်သည်ကား၊ ဘုရားသခင်ဖြစ်
ပွားစေတော်မူသောသူဖြစ်သည်ကိုသိရကြ၏။

၃

၁ ဘုရားသခင်၏သားတော်ဟုခေါ်ဝေါ်ခြင်းအ
ခွင့်ကိုငါတို့သည်ရမည်အကြောင်း၊ဘုရားသခင်

သည့် ငါတို့ ကို အဘယ် မျှ ယောက် ချစ် တော်မူ
သည်ကိုကြည့်ရှုဆင်ခြင်ကြလော့။လောကီသား
တို့သည် ဘုရားသခင်ကို မသိသောကြောင့်၊ ငါ
တို့ကိုလည်းမသိကြ။- ချစ်သူတို့၊ယခုတွင်ငါတို့
သည်ဘုရားသခင်၏သားဖြစ်ကြ၏။နောက်မှအ
ဘယ်သို့သောသူဖြစ်မည်ဟုမထင်ရှားသေး။သို့
သော်လည်း၊ကိုယ်တော်သည်ထင်ရှားပေါ်ထွန်း
တော်မူသောအခါ၊ ငါတို့သည် ကိုယ်တော်နှင့်
တူ ကြ ထတ့်ဟု ငါ တို့ သိ ကြ ၏။ အကြောင်းမူ
ကား၊ ကိုယ်တော်ဖြစ်တော်မူသည် အတိုင်းကို
၃ ငါတို့သည်မြင်ရကြလတ့်။ ထိုသို့မျှော်လင့်သော
သူမည်သည်ကား၊ ကိုယ် တော် သန့်ရှင်း တော်
မူ သည် နည်း တူ၊ ကိုယ်ကို ကိုယ် သန့် ရှင်း စေ
တတ်၏။
၄ ဒုစရိုက်ကိုပြုသောသူမည်သည်ကား၊ပညတ်
တော်ကိုလွန်ကျူး၏။ဒုစရိုက်သဉ်ကား၊ပညတ်
၅ တော်ကို လွန် ကျူး ခြင်းဖြစ်သတည်း။- ကိုယ်
တော် သည် ငါတို့၏ အပြစ် များကို ဆောင်သွား
ခြင်းငှါ ထင်ရှား ပေါ်ထွန်းတော် မူသည်ကိုသင်
တို့သိကြ၏။ ကိုယ် တော် ၌ လည်း အပြစ်မရှိ။-
၆ ကိုယ်တော်၌ ဘည်နေသောသူမည်သည်ကား၊
ဒုစရိုက်ကို မပြု တတ်။ ဒုစရိုက်ကို ပြုတတ်သော
သူမည်သည်ကား၊ ကိုယ် တော်ကို မသိမမြင်ရ
၇ သေး။- ချစ်သားတို့၊ သင် တို့ကို အဘယ် သူမျှမ
လှည့်ဖြား စေနှင့်။ အကြင် သူ သည် ဖြောင့်မတ်
ခြင်း တရားကို ကျင့်၏၊ ကိုယ်တော် ဖြောင့်မတ်
တော်မူသည်နည်းတူ၊ ထို သူ သည် ဖြောင့်မတ်
၈ ခြင်းရှိ၏။-မာရ်နတ်သည်ရှေးဦးစွာမှစ၍ဒုစရိုက်
ကိုပြုသောသူဖြစ်သောကြောင့်၊အကြင်သူသည်
ဒုစရိုက်ကိုပြု၏၊ ထိုသူ သည် မာရ်နတ်နှင့် ဆိုင်
၏။ မာရ်နတ်အမှုတို့ကိုပယ်ဖျက်ခြင်းငှါ၊ဘုရား
သခင်၏သားတော်သည်ထင်ရှားပေါ်ထွန်းတော်
၉ မူ၏။- ဘုရား သခင် ဖြစ်ပွား စေတော် မူသောသူ
မည်သည်ကား၊ဒု စရိုက်ကိုမပြုတတ်။အကြောင်း
မူကား၊ထိုသူ၌မျိုးစေ့တော်တည်လျက်ရှိ၏။ ထို
သူသည် ဘုရား သခင်ဖြစ်ပွား စေတော် မူသော
၁၀ သူဖြစ်သောကြောင့်ဒုစရိုက်ကိုမပြုနိုင်။- ထိုသို့
သော လက္ခဏာ အား ဖြင့် ဘုရားသခင်၏ သား
တို့နှင့် မာရ်နတ်၏သားတို့သည် ထင်ရှားကြ၏။
ဖြောင့်မတ်ခြင်းတရားကိုမကျင့်သောသူ၊ မိမိညီ
အစ်ကိုကိုမချစ်သောသူမည်သည်ကား၊ ဘုရား
၁၁ သခင်နှင့်မဆိုင်။- သင်တို့သည်ရှေးဦးစွာကပင်
၁၂ ကြားရသောတရားစကားဟူမူကား၊ မာရ်နတ်
နှင့်ဆိုင်၍၊ မိမိညီကို သတ်သော ကာဣနကဲ့သို့
မဟုတ်၊ ငါတို့သည်အချင်းချင်းချစ်ရကြမည်ဟု
လာသတည်း။ ကာဣနသည် မိမိညီကိုအဘယ်
ကြောင့် သတ် သနည်း ဟူ မူ ကား၊ မိမိ အကျင့်
သည်ဆိုးယုတ်၍၊ညီ၏အကျင့်သည်ဖြောင့်မတ်
သတည်း။
၁၃ ညီအစ်ကိုတို့၊ လောကီ သားတို့သည် သင်တို့
ကိုမုန်းသော်လည်း အံ့ဩခြင်း မရှိကြနှင့်။-
၁၄ ငါတို့သည်ညီအစ်ကိုချင်းတို့ကိုချစ်သောကြောင့်၊
သေခြင်းမှ အသက်ရှင်ခြင်းသို့ကိုယ်ကူးပြောက်
သည်ကိုကိုယ်သိရကြ၏။ မိမိညီအစ်ကိုကိုမချစ်
၁၅ သောသူသည် သေခြင်း၌ တည်၏။- မိမိညီအစ်
ကိုကိုမုန်းသော သူမည်သည်ကား၊ လူအသက်
ကို သတ် သော သူဖြစ်၏။ လူ အသက် ကို သတ်
သောသူတစုံ တယောက်၌မျှ ထာဝရအသက်မ
၁၆ တည်သည်ကိုသင်တို့သိကြ၏။-ခရစ်တော်သည်
ငါတို့အမို့အလိုငှါ အသက်တော်ကို စွန့်တော်မူ
သည် အရာကို ငါတို့သည် ထောက်၍၊ မေတ္တာ
တော်ကိုသိရကြပြီ။ငါတို့သည်လည်းညီအစ်ကို
၁၇ ချင်းတို့အမို့အလိုငှါအသက်ကိုစွန့်ရကြ၏။- အ
ကြင်သူ သည်၊ လောကီ စည်းစိမ် ဥစ္စာရှိ လျက်
ပင်၊ မိမိညီအစ်ကိုဆင်းရဲခြင်းကိုမြင်၍၊ သနား
ခြင်းကရုဏာစိတ်ကိုချုပ်တည်း၏၊ ထိုသူ၌ဘုရား
သခင်၏ မေတ္တာ တော်သည် အဘယ် သို့ တည်
မည်နည်း။
၁၈ ချစ်သားတို့၊ ငါတို့ သည် စကားပြော ကာမျှ
အားဖြင့်သာမချစ်ဘဲ၊စိတ်ပါကိုယ်ရောက်ကျေနပ်
၁၉ အမှန်ချစ်ကြကုန်အံ့။-ထိုသို့ချစ်လျှင်၊ကိုယ်တိုင်
သမ္မာ တရား နှင့် ဆိုင် သည် ကို ကိုယ် သိရ၍၊
ဘုရားသခင် ရှေ့တော် ၌ ကိုယ် စိတ် နှစ် လုံးကို
၂၀ သက်သာစေကြလိမ့်မည်။-အကြောင်းမူကား၊
ကိုယ်စိတ်နှလုံးသည်ကိုယ်ကို အပြစ်တင်လျှင်၊
ဘုရားသခင်သည်ငါတို့၏ စိတ်နှလုံးထက်သာ
၍ကြီးမြတ်သည်ဖြစ်၍၊ အလုံးစုံတို့ကိုသိတော်မူ
၂၀ သည်ကိုငါတို့သိကြ၏။- ချစ်သူတို့၊ကိုယ်စိတ်နှ
လုံး သည် ကိုယ် ကို အပြစ် မတင် လျှင်၊ ဘုရား
သခင်ရှေ့တော်၌ ရဲရင့် ရသော အခွင့် ရှိကြ၏။-
၂၂ ငါတို့သည်ပညတ်တော်တို့ကို စောင့်ရှောက်၍၊
နှစ်သက်တော် မူသောအကျင့်တို့ကို ကျင့်သော
ကြောင့်၊ ဆုတောင်း သမျှတို့ကို ဘုရားသခင်ထံ
၂၃ တော်မှရကြ၏။- ဘုရားသခင်၏ပညတ်တော်ဟူ

မှုကား၊ သားတော်ယေရှုခရစ်ကို ယုံကြည်ရ
မည်။ သားတော်ပညတ်တော်မူသည် အတိုင်း၊
အချင်းချင်း ချစ်ရမည် ဟူသော ပညတ်တော်ပေ
၂၄ တည်း။-ပညတ်တော်တို့ကိုစောင့်သောသူသည်
ဘုရားသခင်၌ တည်၏။ ထိုသူ၌ လည်း ဘုရား
သခင် တည် တော်မူ၏။ ငါတို့ အား ပေးတော်
မူသော ဝိညာဉ် တော်ကို ငါတို့သည် အမှီပြု၍၊
ဘုရားသခင်သည် ငါတို့၌တည်တော်မူသည်ကို
သိရကြ၏။

၄

၁ ချစ်သူတို့၊ ခပ်သိမ်းသော စိတ်ဝိညာဉ် တို့ကို
မယုံကြနှင့်။ စိတ်ဝိညာဉ် တို့သည်၊ ဘုရားသခင်
နှင့် စပ်ဆိုင်သည်၊ မစပ်ဆိုင်သည်ကို စုံစမ်းကြ
လော့။ အကြောင်းမူကား၊ မိစ္ဆာပရောဖက်အများ
၂ တို့သည် ဤလောကသို့ သွားကြပြီ။-ဘုရားသခင်
၏ဝိညာဉ်တော်ကို အဘယ်သို့သိနိုင်သနည်းဟူ
မူကား၊ လူဇာတိအားဖြင့် ကြွလာတော်မူသော
ယေရှုခရစ်ကိုဝန်ခံသောဝိညာဉ်မည်သည်ကား၊
၃ ဘုရားသခင်နှင့် စပ်ဆိုင်၏။- လူဇာတိ အားဖြင့်
ကြွလာတော်မူသောယေရှုခရစ်ကိုဝန်မခံသော
ဝိညာဉ်မည်သည်ကား၊ ဘုရားသခင်နှင့် မစပ်
ဆိုင်။ ထိုသို့သော ဝိညာဉ် ကား၊ သင်တို့ သည်
ကြားခဲ့ပြီးသည်အတိုင်း၊ ဤလောကသို့လာမည်
ဖြစ်၍၊ ယခုပင်လာလျက်ရှိသော အန္တိခရစ်၏
၄ ဝိညာဉ်ဖြစ်၏။-ချစ်သားတို့၊ သင်တို့သည် ဘုရား
သခင်နှင့်စပ်ဆိုင်ကြ၏။ ထိုသူတို့ကိုလည်း အောင်
ကြပြီ။ အကြောင်းမူကား၊ သင်တို့ထက်၌ရှိသော
သူသည် လောကဘက်၌ ရှိသောသူထက် သာ၍
၅ ကြီးတော်မူ၏။- ထိုသူတို့သည် လောကနှင့် စပ်
ဆိုင်သောကြောင့်၊ လောကီအကြောင်းအရာကို
ပြောတတ်ကြ၏။ လောကီ သားတို့သည် လည်း
၆ သူတို့ စကားကို နားထောင် တတ်ကြ၏။- ငါတို့
မူကား၊ ဘုရားသခင်နှင့် စပ်ဆိုင် ကြ၏။ ဘုရား
သခင် ကို သိသော သူသည် ငါတို့ စကားကို နား
ထောင်တတ်၏။ ဘုရားသခင်နှင့် မစပ်ဆိုင်သော
သူသည် ငါတို့စကားကိုနားမထောင်တတ်။ ထို
အရာကိုငါတို့သည်ထောက်၍၊ သမ္မာဝိညာဉ်ကို
၎င်း၊ မိစ္ဆာဝိညာဉ်ကို၎င်း သိရကြ၏။
၇ ချစ်သူတို့၊ ငါတို့သည် အချင်းချင်း ချစ်ကြကုန်
အံ့။ အကြောင်းမူကား၊ ချစ်ခြင်း မေတ္တာ သည်
ဘုရားသခင် နှင့် စပ်ဆိုင်၏။ ချစ်တတ် သောသူ
မည်သည်ကား၊ ဘုရားသခင် ဖြစ်ပွားစေတော်
မူသော သူဖြစ်၏။ ဘုရား သခင်ကို သိ သော သူ
၈ လည်း ဖြစ်၏။-ချစ်ခြင်းမရှိသောသူသည်ဘုရား
သခင်ကိုမသိ။ အကြောင်းမူကား၊ ဘုရားသခင်
၉ သည်ချစ်ခြင်းမေတ္တာဖြစ်တော်မူ၏။- သားတော်
အားဖြင့် ငါ တို့ သည် အသက် ရှင် စေခြင်း ငှါ၊
ဘုရားသခင်သည်တပါးတည်းသောသားတော်
ကို ဤလောကသို့ စေလွှတ်တော်မူသော အရာ၌၊
ငါတို့ကိုချစ်တော်မူသောမေတ္တာတော်သည်ထင်
၁၀ ရှားလျက်ရှိ၏။- ငါတို့သည် ဘုရားသခင်ကို ချစ်
ကြသည်ဟုမဆို။ ဘုရားသခင်သည်ငါတို့ကိုချစ်
၍၊ ငါတို့၏အပြစ်ဖြေရာအကြောင်းဖြစ်စေခြင်း
ငှါ၊ သားတော်ကို စေလွှတ်တော်မူသောအရာ၌
၁၁ ချစ်ခြင်း မေတ္တာ ရှိ၏။- ချစ်သူ တို့၊ ဘုရား သခင်
သည် ငါ တို့ ကို ဤမျှ လောက် ချစ်တော် မူသည်
မှန်လျှင်၊ ငါတို့သည်လည်း အချင်းချင်းချစ်ရကြ
၁၂ မည်။- ဘုရားသခင်ကို အဘယ်သူမျှမမြင်စဘူး။
သို့သော်လည်း၊ အချင်းချင်းချစ်ကြလျှင်၊ ဘုရား
သခင်သည် ငါတို့၌ တည်တော်မူ၍၊ ငါတို့သည်
ချစ်ခြင်းမေတ္တာတော်နှင့် ပြည့်စုံလျက်ရှိကြ၏။-
၁၃ ဘုရားသခင်သည်ဝိညာဉ်တော်၏ကျေးဇူးကိုငါ
တို့အား ပေးတော် မူသောကြောင့်၊ ငါတို့သည်
ဘုရားသခင် ၌ တည်သည် ကို၎င်း၊ ဘုရားသခင်
သည် ငါတို့၌ တည်တော် မူသည်ကို၎င်း သိရကြ
၁၄ ၏။- လောကီ သားတို့ကို ကယ်တင်သောသခင်
ဖြစ်စေခြင်းငှါ၊ ခမည်းတော်သည်သားတော်ကို
စေလွှတ် တော်မူသည်ကို၊ ငါတို့ သည် သိမြင်၍
သက်သေခံကြ၏။
၁၅ ယေရှုသည် ဘုရား သခင်၏ သား တော် ဖြစ်
တော်မူသည်ကို ဝန်ခံသော သူမည်သည်ကား၊
ဘုရားသခင်၌တည်၏။ ဘုရားသခင်သည်လည်း
၁၆ ထိုသူ၌ တည်တော်မူ၏။- ဘုရား သခင်သည်ငါ
တို့ကိုချစ်တော်မူခြင်းမေတ္တာတော်ကိုငါတို့သည်
သိ၍ယုံကြည်ကြ၏။ ဘုရားသခင်သည်ချစ်ခြင်း
မေတ္တာ ဖြစ်တော်မူ၏။ ချစ်ခြင်းမေတ္တာ ၌ တည်
သော သူ သည် ဘုရားသခင်၌ တည် ၏။ ဘုရား
၁၇ သခင်သည်လည်း ထိုသူ၌တည်တော်မူ၏။- ထို
သို့ ငါတို့သည် ချစ်ခြင်းမေတ္တာနှင့် ပြည့်စုံသော
အားဖြင့်၊ တရားဆုံးဖြတ်တော်မူသောနေ့၌ရဲရင့်
ရသောအခွင့်ရှိကြလိမ့်မည်။ အကြောင်းမူကား၊
ငါတို့သည် ကိုယ်တော်၏ နည်းတူ ဤလောက၌
၁၈ ဖြစ်ကြ၏။- ချစ်ခြင်းမေတ္တာသည် ကြောက်ခြင်း
သံဝေဂနှင့် မပေါင်းနိုင်ရာ။ သံဝေဂသည် ပူပန်

ခြင်းဝေဒနာကိုဖြစ်စေသောကြောင့်၊ စုံလင်သော
မေတ္တာသည်သံဝေဂကိုပယ်ရှားတတ်၏။ သံဝေ
ဂရှိသော သူသည် မေတ္တာနှင့် မပြည့်စုံသေး။-
၁၉ ဘုရားသခင်သည် ငါတို့ကို ရှေ့ဦးစွာချစ်တော်မူ
သောကြောင့်၊ ငါတို့သည်ဘုရားသခင်ကိုချစ်ကြ
၂၀ ၏။-တစုံတယောက်သောသူက၊ ငါသည်ဘုရား
သခင်ကိုချစ်၏ဟုဆိုလျက်ပင်၊ မိမိညီအစ်ကိုကို
မုန်းလျှင်၊ ထိုသူသည် မုသာကို သုံးသော သူဖြစ်
၏။ မိမိမြင်ရသော မိမိညီအစ်ကိုကိုမချစ်လျှင်၊ မ
မြင်သေး သော ဘုရားသခင် ကို အဘယ်သို့ ချစ်
၂၁ နိုင်မည်နည်း။-ဘုရားသခင်ကိုချစ်သောသူသည်
မိမိညီအစ်ကိုကိုချစ်ရမည်ဟူသောပညတ်တော်
ကိုငါတို့သည်ခရစ်တော်ထံ၌ခံရကြပြီ။

၅

၁ ယေရှုသည် ခရစ်တော် ဖြစ်တော် မူသည် ကို
ယုံကြည်သောသူမည်သည်ကား၊ ဘုရားသခင်
ဖြစ်ပွား စေတော် မူသော သူဖြစ်၏။ အဖကိုချစ်
သောသူသည်သားကိုလည်း ချစ်တတ်သည်နှင့်
၂ အညီ၊-ငါတို့သည်ဘုရားသခင်ကိုချစ်၍၊ ပညတ်
တော်တို့ကို စောင့်ကြလျှင်၊ ဘုရားသခင်၏သား
၃ တို့ကို ချစ်ကြသည်ကို ငါတို့သိရကြ၏။- ပညတ်
တော်တို့ကိုစောင့်ခြင်းအရာသည် ဘုရားသခင်ကို
ချစ်ရာရောက်၏။ ပညတ်တော်တို့ကိုစောင့်ခဲသည်
၄ မဟုတ်။- ဘုရားသခင်၏ သားဖြစ်သော သူမည်
သည်ကား၊ လောကကိုအောင်တတ်၏။ လောက
ကိုအောင် ခြင်း အကြောင်းမူကား၊ ငါ တို့၏ ယုံ
၅ ကြည်ခြင်းပေတည်း။- ယေရှုသည် ဘုရားသခင်
၏သားတော်ဖြစ်သည်ကို ယုံကြည်သောသူမှတ
ပါး၊ အဘယ်သူ သည် လောကကို အောင် နိုင်
သနည်း။
၆ ထိုသခင်ကား၊ ရေအားဖြင့်၎င်း၊ အသွေးအား
ဖြင့်၎င်း ကြွလာသော သူတည်း ဟူသော ယေရှု
ခရစ် ပေတည်း။ ရေ အား ဖြင့် သာမဟုတ်၊ ရေ
အားဖြင့်၎င်း၊ အသွေးအားဖြင့်၎င်းကြွလာတော်
မူ၏။ သက်သေခံဟူမူကား၊ ဝိညာဉ်တော်သည်
၇ သမ္မာတရားဖြစ်၍သက်သေခံတော်မူ၏။-သို့ဖြစ်
လျှင်၊ ကောင်းကင်ဘုံ၌ ခမည်းတော်တပါး၊ နှုတ်
ကပတ်တော်တပါး သန့်ရှင်းသောဝိညာဉ်တော်
တပါး၊ သက်သေခံသုံးပါးရှိ၍ ထိုသုံးပါးတို့သည်
၈ တလုံးတဝတည်းဖြစ်တော်မူ၏။-မြေကြီးပေါ်၌
လည်း ဝိညာဉ်တော်တပါး၊ ရေတပါး၊ အသွေးတ
ပါး၊ သက်သေခံသုံးပါးရှိ၍ ထိုသုံးပါးတို့သည်
၉ တညီတညွတ်တည်းဖြစ်၏။- လူ၏သက်သေကို
ထိုရလျှင်၊ ဘုရားသခင်၏သက်သေတော်ကိုသာ
၍ယုံမှတ်ရာအကြောင်းရှိ၏။ ယခုဆိုခဲ့ပြီးသော
သက်သေကား၊ ဘုရားသခင်သည်မိမိသားတော်
၏အကြောင်းကို သက်သေခံတော်မူချက်ဖြစ်သ
၁၀ တည်း။- ဘုရားသခင်၏သားတော်ကို ယုံကြည်
သောသူသည်၊ မိမိအထဲ၌ ထိုသက်သေကို ရ၏။
ဘုရားသခင်ကိုမယုံကြည်သောသူမူကား၊ ဘုရား
သခင်ကို မုသာ အဖြစ်တင်၏။ အဘယ်သို့နည်း
ဟူမူကား၊ ဘုရားသခင်သည်မိမိသားတော်၏အ
ကြောင်းမှာသက်သေခံတော်မူသောစကားတော်
၁၁ ကို၊ ထိုသူသည်မယုံဘဲနေ၏။- သက်သေခံတော်
မူချက်ဟူမူကား၊ ဘုရားသခင်သည် ငါတို့ အား
ထာဝရ အသက်ကို ပေးတော်မူ၍၊ ထို အသက်
၁၂ သည်လည်းသားတော်၌ပါ၏။- သားတော်ကိုရ
သောသူသည်အသက်ကိုရ၏၊ ဘုရားသခင်၏သား
တော်ကိုမရသောသူမူကား၊ အသက်ကိုမရ။
၁၃ ဘုရားသခင် ၏ သားတော်ကို ယုံကြည် သော
သင်တို့သည် ထာဝရ အသက်ကို ကိုယ်တိုင် ရ
သည်ဟု သိစေခြင်းငှါ၊ ဤအရာများကို သင်တို့
၁၄ အားငါရေး၍ပေးလိုက်၏။- ငါတို့သည် ဘုရား
သခင်အထံတော်၌ ရဲရင့်ခြင်းအကြောင်း ဟူမူ
ကား၊ ငါတို့သည်အလိုတော်နှင့်အညီ တစုံတခု
သောဆုကိုတောင်းလျှင်၊ ဘုရားသခင်သည်နား
၁၅ ထောင်တော်မူ၏။- ဆုတောင်းသမျှသောစကား
တို့ကိုနားထောင်တော်မူသည်ကို ငါတို့သိလျှင်၊
အထံတော်၌တောင်းသောဆုတို့ကိုရမည်ဟုသိ
၁၆ ရကြ၏။- ညီအစ်ကို ချင်းသည် သေ ပြစ် မသင့်
သော ဒုစရိုက်ကို ပြုမိသည်ကို တစုံ တယောက်
သောသူသည်မြင်လျှင်၊ ထိုသူသည်ဆုတောင်း
ရမည်။ သေပြစ်ကိုမပြုသောသူတို့အဖို့အလို့ငှါ၊
ဘုရားသခင်သည် ထိုသူအား အသက် ကို ပေး
တော်မူမည်။ သေပြစ်သင့်သောဒုစရိုက်ရှိ၏။ ထို
ဒုစရိုက်အပြစ်ကို လွှတ်စေခြင်းငှါ ဆုတောင်းရ
၁၇ မည်ဟုငါမဆို။- မတရားသော အမှုမည်သည်
ကား ဒုစရိုက်ဖြစ်၏။ သို့သော်လည်း၊ သေပြစ်မ
၁၈ သင့်သောဒုစရိုက်ရှိ၏။- ဘုရားသခင်၏သားဖြစ်
သမျှသောသူတို့သည်ဒုစရိုက်ကိုမပြုတတ်သည်
ကိုငါတို့သိကြ၏။ ဘုရားသခင်ဖြစ်ပွားစေတော်
မူသောသူသည်၊ မိမိကို မိမိစောင့်ရှောက်သဖြင့်၊
၁၉ မာရ်နတ်သည် ထိုသူကိုမထိမခိုက်နိုင်ရာ။- ငါ
တို့သည် ဘုရားသခင်နှင့် စပ်ဆိုင်သည် ကို၎င်း၊

လောကီသားအပေါင်းတို့သည်မာရ်နတ်၏လက်
၂၀ ၌ရှိကြသည်ကိုငါတို့သိကြ၏။- ဘုရားသခင်
၏ သားတော်သည် ကြွလာ၍၊ မှန်သော ဘုရား
သခင်ကိုသိသောဉာဏ်ကိုငါတို့အားပေးတော်
မူသည်ကိုလည်းငါတို့သိကြ၏။ မှန်သောဘုရား
သခင်၌၎င်၊ သားတော် ယေရှုခရစ်၌၎င် ငါ တို့
သည် တည်လျက်ရှိကြ၏။ ထိုသူသည် မှန်သော
ဘုရား သခင် ဖြစ် တော် မူ ၏။ ထာဝရ အ သက်
၂၁ လည်းဖြစ်တော်မူ၏။- ချစ်သားတို့၊ ရုပ်တုဆင်း
တုကိုကြည်ရှောင်ကြလော့။

ရှင်ယောဟန်ဩဝါဒစာပဌမစောင်ပြီး၏။

---

# ရှင်ယောဟန်ဩဝါဒစာဒုတိယစောင်။

## THE SECOND EPISTLE OF JOHN.

၁ အသက်ကြီးသူသည် မြတ်သော သခင်မကို
၂ ၎င်၊ သားသမီးတို့ကို၎င် ကြား လိုက် ပါ၏။ ငါ
တို့၌ တည် ၍ ငါတို့တွင် အစည် မပြတ် ရှိထတ့်
သောသမ္မာတရားကြောင့်၊ ငါမှစ၍သမ္မာတရား
ကို သိသော သူအပေါင်း တို့သည်၊ သခင်မနှင့်
သားသမီးတို့၌ မှန်ကန်သောချစ်ခြင်း မေတ္တာရှိပါ
၃ ၏။- ခမည်းတော်ဘုရားထံတော်က၎င်၊ ခမည်း
တော် ၏ သားတော်ယေ ရှု ခ ရစ် အ ထံ က ၎င်
သမ္မာ တရား၊ မေတ္တာတရားနှင့်တကွ၊ ကျေးဇူး၊
ကရုဏာ၊ ငြိမ် သက် ခြင်း သည် သင် တို့ ၌ ရှိ ပါ
စေသော။
၄ ငါတို့သည် ခမည်းတော် ဘုရားထံ၌ ပညတ်
တော်ကိုခံရသည်အတိုင်း၊ သင်၏သားသမီးအချို့
တို့သည် သမ္မာတရား၌ကျင်လည်၍ နေသည်ကို
ငါတွေ့သော အခါ၊ အလွန် ဝမ်းမြောက်ခြင်း ရှိ
၅ ၏။- ယခု တွင် ပညတ် တော် သစ် ကို မရေး ဘဲ
လျှက်၊ ငါတို့၌ ရှေးဦးစွာကပင် ရှိသော ပညတ်
တော်ကို ရေးထား၍၊ သခင်မ၊ အချင်းချင်း ချစ်
ခြင်း မေတ္တာရှိကြကုန်အံ့ဟု ငါတောင်းပန်၏။-
၆ ပညတ်တော်တို့အတိုင်း ကျင့်စောင့်ခြင်း အရာ
သည်ချစ်ရာရောက်၏။သင်တို့သည်ပညတ်တော်
နှင့်အညီကျင့်မည်အကြောင်း၊ ရှေးဦးစွာကပင်
သင်တို့ကြားရသည်အတိုင်း၊ပညတ်တော်သည်
ထိုသို့သောသဘောရှိ၏။
၇ လူ့ဇာတိအားဖြင့်ကြွလာတော်မူသောယေရှု
ခရစ်ကို ငြင်းပယ်လျှက်၊ လှည့်ဖြားသော သူအ
များတို့သည်လောကထဲသို့ဝင်ကြပြီ။ထိုသို့သော
သူသည် လှည့်ဖြားသော သူ ဖြစ်၏။ အန္တိခရစ်
၈ လည်းဖြစ်၏။- ငါတို့သည် ကိုယ် ပြုစုသော အ
ရာမပျောက်မပျက်၊ စုံလင်သောအကျိုးကိုရမည့်
အကြောင်း၊ သင်တို့သည်ကိုယ်ကို ကိုယ်သတိ
၉ ပြု၍ စောင့်ရှောက်ကြလော့။- ခရစ်တော်၏ ဒေ
သနာ၌ မတည်ဘဲလွန်ကျူးသော သူမည်သည်
ကား၊ ဘုရားသခင်ကိုမသိ။ ခရစ်တော်၏ဒေသ
နာ၌တည်သောသူသည် ခမည်းတော်နှင့် သား
၁၀ တော်ကိုသိ၏။- ထိုဒေသနာတော် မပါသော သူ
သည် သင်တို့ထံသို့လာလျှင်၊ သူကို သင့်အိမ်၌
လက်မခံနှင့်။ မင်္ဂလာရှိစေသောဟု နှုတ်မဆက်
၁၁ နှင့်။- မင်္ဂလာရှိစေသောဟု ထိုသူကို နှုတ်ဆက်
လျှင်၊ သူ၏ဆိုးယုတ် သော အကျင့်တို့နှင့် ဆက်
ဆံရာသို့ရောက်၏။
၁၂ သင်တို့အားငါရေးစရာအကြောင်း အများရှိ
သော်လည်း၊ စက္ကူပေါ်၌မှင်နှင့်ရေးခြင်းငှါအ
လိုမရှိ။ သင်တို့ဆီသို့ငါလာ၍၊အချင်းချင်းအား
ရဝမ်းမြောက်ခြင်း စုံလင်မည်အကြောင်း၊ သင်
တို့နှင့်နှုတ်ဆက်၍စကားပြောမည်ဟုမျှော်ထင့်
၁၃ လျက်နေ၏။- သင်၏ မြတ်သောညီမ၏ သားသမီး
တို့သည်သင့်ကိုနှုတ်ဆက်ကြ၏။

ရှင်ယောဟန်ဩဝါဒစာဒုတိယစောင်ပြီး၏။

# ရှင်ယောဟန်ဩဝါဒစာတတိယစောင်။

## THE THIRD EPISTLE OF JOHN.

၁ အသက်ကြီးသူသည် ချစ်အပ်သော ဂါယုကို
ကြား လိုက်ပါ၏။ ငါသည် သင့်ကို မှန်ကန်သော
၂ ချစ်ခြင်းမေတ္တာရှိ၏။- အချင်းချစ်သူ၊သင်၏စိတ်
နှစ်လုံးသည်ကောင်းစားသကဲ့သို့၊ သင်သည်အ
ရာရာ၌ကောင်းစားခြင်းနှင့်ကျန်းမာခြင်းရှိမည်
၃ အကြောင်း ငါဆုတောင်း၏။- သင်သည်သမ္မာ
တရား၌ ကျင်လည်သည်အတိုင်း သင်၌ရှိသော
သမ္မာ တ ရား ၏ အ ကြောင်း ကို ညီအစ် ကိုတို့
သည်လာ၍ သက်သေခံကြသောအခါ၊ ငါသည်
၄ အလွန်ဝမ်းမြောက်ခြင်းရှိ၏။- ငါ၏သားသမီးတို့
သည် သမ္မာတရား၌ကျင်လည်သည်ကို ငါကြား
၍ ဝမ်း မြောက် ခြင်း ထက် သာ၍ ဝမ်း မြောက်
ခြင်းမရှိ။
၅ အချင်းချစ်သူ၊ သင် သည် ညီအစ်ကို တို့အား
၎င်း၊ အာဂန္တုတို့အား၎င် ပြုသမျှသော ဝတ်တို့
၆ ကို သစ္စာနှင့်အညီ ပြုတတ်၏။- ထိုသူတို့သည်
သင် ၏ ချစ်ခြင်း မေတ္တာ အကြောင်း ကို အသင်း
တော်ရှေ့၌ သက်သေခံကြ၏၊ သင်သည်ထိုသူတို့
ကို ဘုရားသခင်၏ အလိုတော်နှင့် အညီ ပို့လိုက်
၇ ပြန်လျှင်၊ကောင်းသောအမှုကိုပြုလိမ့်မည်။- အ
ကြောင်း မူကား၊ ထို သူတို့ သည် နာမ တော် ကို
ထောက်၍၊ သာသနာပ လူတို့တွင် အလှူမခံဘဲ
၈ သွားကြ၏။- ငါ တို့သည် သမ္မာ တရားကို ကူမ
သောသူဖြစ်အံ့သောငှါ၊ ထိုသို့သော သူတို့အား
ချည့်သည်ဝတ်ကိုပြုအပ်ကြ၏။
၉ အသင်း တော် ထံသို့ မှာစာ ကို ငါ ရေး၍ ပေး
လိုက်လေပြီ။ သို့သော်လည်း၊ အကဲ အမှူးလုပ်
ချင်သောဒယောတရပ်သည် ငါတို့အား အခွင့်မ
၁၀ ပေး။- ထိုကြောင့်၊ ငါလာသောအခါသူသည်မိမိ
ပြုသောအမှုကို မိမိသတိရစေခြင်းငှါ ငါပြုမည်။
ထိုသူသည် ငြူစူသော စကားနှင့် ငါတို့ကို ကဲ့ရဲ့
သည်သာမက၊ ကဲ့ရဲ့ခြင်းနှင့်စိတ်မပြေဘဲလျက်၊
ညီအစ်ကိုတို့ကို ကိုယ်တိုင်လက်မခံ၊ လက်ခံချင်
သောသူတို့ကိုလည်းမြစ်တား၍၊ အသင်းတော်
၁၁ ထဲကနှင်ထုတ်တတ်၏။-အချင်းချစ်သူ၊မကောင်း
သောနည်းကို မလိုက်နှင့်၊ကောင်းသောနည်းကို
သာလိုက်လော့။ ကောင်းသော အကျင့်ကို ကျင့်
သော သူသည် ဘုရား သခင်နှင့် စပ်ဆိုင်၏။ မ
ကောင်းသော အကျင့်ကို ကျင့် သော သူမူကား၊
၁၂ ဘုရားသခင်ကို မသိမမြင်ရပြီ။- လူအပေါင်းတို့
သည် ဒေမေတရိ၏ သက်သေ ဖြစ် ကြ၏၊ သမ္မာ
တရားသည်လည်း သူ၏ သက်သေဖြစ်၏။ ငါတို့
သည်လည်း ထိုသူအကျိုး၌သက်သေခံကြ၏။ ငါ
တို့၏ သက်သေ ခံခြင်းသည် ဟုတ်မှန်သည် ကို
သင်တို့သိကြ၏။
၁၃ ငါရေးစရာအကြောင်းအများရှိသော်လည်း၊
၁၄ မှင်နှင့်မှင်တံဖြင့်ရေးခြင်းငှါ အလိုမရှိ။- မကြာ
မမြင့်မှီသင့်ကို ငါတွေ့မြင်လျှင် အချင်းချင်း နှုတ်
ဆက်၍စကားပြောမည်ဟု မျှော်ထင်လျက် နေ
၏။သင်၌ငြိမ်သက်ခြင်းရှိပါစေသော။ အဆွေတို့
သည်သင့်ကို နှုတ်ဆက်ကြ၏၊ သင်၌ရှိသောအ
ဆွေတို့၏နာမည်ကိုထုတ်၍နှုတ်ဆက်လော့။

ရှင်ယောဟန်ဩဝါဒစာတတိယစောင်ပြီး၏။

# ရှင်ယုဒစာ

## THE EPISTLE OF JUDE.

၁ ယေရှုခရစ်၏ကျွန်ဖြစ်သော ယာကုပ်ညီ ငါ
ယုဒသည် ခမည်းတော် ဘုရားသခင် သန့်ရှင်း
စေတော်မူ၍၊ ယေရှုခရစ်ခေါ်ထားစောင့်မတော်
၂ မူသောသူတို့ကိုကြားလိုက်ပါ၏။-သင်တို့၌ကရု
ဏာ ရှိပါစေသော။ ငြိမ်သက်ခြင်းနှင့် ချစ်ခြင်း
များပြားပါစေသော။
၃ ချစ်သူတို့၊ အညီအမျှဆက်ဆံသောကယ်တင်
ခြင်း၏ အကြောင်းအရာကို သင်တို့ထံသို့ ရေး၍
ပေးလိုက်ခြင်းငှါငါသည် အလွန်ကြိုးစားသည်
တွင်၊ သန့်ရှင်းသူတို့၌ အထက်ကအပ်ပေးခဲ့ပြီး
သောယုံကြည်ခြင်းတရားဘက်မှာ သင်တို့သည်
ကြိုးစား၍ တိုက်လှန်စေခြင်းငှါ၊ နှိုးဆော်သွေး
၄ ဆောင်၍ရေးလိုက်ရသောအကြောင်းရှိ၏။- အ
အယ်ကြောင့်နည်းဟူမူကား၊ငါတို့ဘုရားသခင်
၏ကျေးဇူး တော်ကို ကိလေသာ၏ညစ်ညူးခြင်း
အလို့ငှါ ဖောက်လှန်လျက်၊ တပါးတည်း အစိုး
ရတော်မူသော အရှင်၊ ငါတို့သခင် ယေရှုခရစ်
ကိုငြင်းပယ်လျက်၊ အပြစ်ခံစေခြင်းငှါ ရှေးက
စီရင်မှတ်သားနှင့်သော အဓမ္မလူအချို့တို့သည်
၅ ပရိယာယ်နှင့်အမှတ်တမဲ့ဝင်ကြပြီ။-ထိုကြောင့်၊
သင်တို့သည် သိနှင့်သော်ထည်း၊ ငါသည်သတိ
ပေး၍ပြောချင်သောအကြောင်းအရာဟူမူကား၊
ထာဝရဘုရားသည်ဣသရေလလူတို့ကိုအဲဂုတ္တု
ပြည်မှ ကယ်နှုတ်တော် မူပြီးလျှင်၊ မယုံကြည်
၆ သောသူတို့ကိုတဖန်ဖျက်ဆီးတော်မူ၏။-ထိုမှတ
ပါး၊ မိမိတို့အခွင့်အရာကိုမစောင့်၊ မိမိတို့နေရာ
အရပ်ကိုစွန့်ပြစ်သော ကောင်းကင်တမန်တို့ကို၊
ကြီးစွာသောနေ့၌ စစ်ကြောစီရင်ခြင်း အလို့ငှါ၊
ထာဝရချည်နှောင်ခြင်းအားဖြင့်မှောင်မိုက်ထဲ
၇ မှာချုပ်ထားတော်မူ၏။- ထိုနည်းတူ၊ သောဒုံမြို့
နှင့်ဂေါမောရမြို့မှစ၍ ပတ်ဝန်းကျင်၌ရှိသောမြို့
တို့သည်၊ အထက်ကဆိုခဲ့ပြီးသော လူဆိုးကဲ့သို့
မတရားသော မေထုန်ကို အလွန်ပြု၍၊ ကိုယ်ခင်
ပွန်းမဟုတ်သောသူတို့နှင့် မှားယွင်းခြင်းအမှု၌
ကျင်လည် သောကြောင့်၊ ထာဝရမီးနှင့် ကျွမ်း
လောင်ခြင်းဒဏ်ကိုခံရ၍ ပုံသက်သေထင်ရှား
လျက်ရှိကြ၏။
၈ ထိုနည်း ယောင်ယမ်းသော အဓမ္မလူ တို့သည်၊
ရှေးနည်းတူ မိမိတို့ကိုယ်ကိုညစ်ညူးစေ၍၊ အခွ
ဏာစက်ကိုပယ်လျက်၊ ဘုန်းတန်ခိုးကြီးသော
၉ သူတို့ကို ကဲ့ရဲ့ တတ်ကြ၏။- ကောင်းကင်တမန်
မင်း မိက္ခေလ မူကား၊ မောရှေ၏ ကိုယ် ကို အ
ကြောင်းပြု၍မာရ်နတ်နှင့်ငြင်းခုံသောအခါ၊ ကဲ့
ရဲ့စွာ သော ပြစ်တင်ခြင်းကို မပြုဝံ့ဘဲ၊ ထာဝရ
ဘုရားသည် သင့်ကိုဆုံးမတော်မူစေသတည်းဟူ
၁၀ ၍သာပြောဆို၏။- ထိုသူတို့မူကား၊ မိမိတို့နားမ
လည်သော အရာများကို ကဲ့ရဲ့ တတ်ကြ၏။ တိ
ရစ္ဆာန်ကဲ့သို့ ပကတိ အတိုင်း မိမိတို့ နားလည်
သော အရာများဖြင့် မိမိတို့ကို ပုပ်ပျက်စေတတ်
၁၁ ကြ၏။-သူတို့သည်အမင်္ဂလာရှိကြ၏။အကြောင်း
မူကား၊ကာဣနနောက်သို့လိုက်ကြ၏၊ အခကိုရ
ခြင်းငှါဗာလမ်မှားယွင်းသကဲ့သို့အလွန်မှားယွင်း
ခြင်းရှိကြ၏။ကောရ၏ငြင်းခုံခြင်းအပြစ်နှင့်ဖျက်
၁၂ ဆီးခြင်းသို့ရောက်ကြ၏။-မေတ္တာပွဲလုပ်၍သင်
တို့နှင့်အတူ စားသောက် သောအခါ၊ အားမနာ
ဘဲ၊ မိမိတို့ကို ဝစွာကျွေး၍ ပွဲ၌ အစွန်းအကွက်
ဖြစ်ကြ၏။ ရေမရှိ၊ လေတိုက်၍လွင့်သော မိုဃ်း
တိမ်ကဲ့သို့ရင်၊ ညှိုးနွမ်း၍အသီးမတင်၊ နှစ်ကြိမ်
၁၃ သေ၍နုတ်ပြစ်သောသစ်ပင်ကဲ့သို့ရင်၊- မိမိရှက်
ခြင်းအကြောင်းကို ပွက်စေတတ်သော လှိုင်းတံ
ပိုးရိုင်းကဲ့သို့ရင်၊ကြယ်ပျံကဲ့သို့ရင်ဖြစ်ကြ၏။ ထို
ကြယ်ပျံ တို့ အဖို့ တခဲနက်သော ထာဝရမှောင်
မိုက်ကိုသိုထားလျက်ရှိ၏။
၁၄ အာဒံမှဆင်းသက်၍ခုနစ်ဆက်မြောက်သော
၁၅ သူဧနောက် က၊ ထာဝရဘုရားသည် ခပ်သိမ်း
သော သူတို့ကို တရားစီရင်တော်မူ၍၊ မတရား
သောသူတို့သည် မတရားသဖြင့် ပြုသောအဓမ္မ
အမှုရှိသမျှတို့၏ အပြစ်ကိုရင်၊ မတရားသောလူ
ဆိုးတို့သည်ဘုရားသခင်ကိုပြစ်မှား၍ပြောသော
ကြမ်းတမ်းသောစကားရှိသမျှတို့၏အပြစ်ကိုရင်
ဖော်ပြခြင်းငှါ၊အတိုင်းမသိများစွာသောမိမိသန့်
ရှင်းသူ တို့နှင့်တကွ ကြွလာတော်မူလိမ့်မည် ဟူ၍
၁၆ ပရောဖက်ပြု၍ဟောပြောလေ၏။- ထိုသူတို့သည်
မြည်တမ်း၍အပြစ်တင်တတ်သောသူ၊ကိုယ်တပ်

မကိခြင်း၊ အတိုင်း ကျင့်တတ်သောသူ၊ ထောင်
လွှားသော စကားကို ပြောတတ်သောသူ၊ ကိုယ်
အကျိုး စီးပွား ကြောင့် သူမျက်နှာ ကို ထောက်
၁၇ ထား ခန့်ညားတတ်သောသူဖြစ်ကြ၏။- ချစ်သူ
၁၈ တို့၊ နောက် ဆုံး သော ကာလ၌၊ မိမိတို့ မတရား
သောတပ်မက်ခြင်း၊အတိုင်း၊ကျင့်နေ၍၊ပြက်ရယ်
ပြုတတ် သော သူတို့သည် ပေါ်ကြလိမ့်မည်ဟု၊
ငါတို့ သခင် ယေရှုခရစ် ၏ တမန်တော် တို့သည်
ဟောပြော နှင့် သော စကား များကို အောင်းမေ့
၁၉ ကြ လေ့။- ထို သူ တို့ သည် သင်း ခွဲ သော သူ၊
ဝိညာဉ်တော်နှင့်ကင်းသောဇာတိပကတိလူဖြစ်
ကြ၏။
၂၀ ချစ်သူတို့၊ သင်တို့သည်မိမိတို့အလွန်သန့်ရှင်း
သော ယုံ ကြည်ခြင်း အပေါ်မှာ မိမိတို့ကို တည်
ဆောက်လျက်၊သန့်ရှင်းသောဝိညာဉ်တော်အား
၂၁ ဖြင့်ဆုတောင်းပဌနာပြုလျက်၊-ဘုရားသခင်ကို
ချစ်ခြင်း မေတ္တာ၌ ကိုယ်ကို ကိုယ်စောင့်ရှောက်
၍၊ ထာဝရအသက်အလို့ငှါ၊ ငါတို့သခင်ယေရှု
ခရစ်၏ ကရုဏာ တော် ကို မျှော်လင့် ၍ နေ ကြ
၂၂ လော့။- ဗိုင်းခြား၍သိတတ်သောညာဏ်ရှိ၍၊
၂၃ အချို့တို့ကို သနား ကြလော့။- ကိုယ်ကာယနှင့်
ညစ်ညူးစွန်းကွက်သောအဝတ်ကိုပင် စက်ဆုပ်
ရွံရှာ၍ ကြောက်ရွံ့ခြင်းနှင့်တကွ၊ အချို့တို့ကိုမီး
ထဲမှဆယ်နှုတ်ကယ်တင်ကြလော့။
၂၄ ထိ မိ ၍ လဲ ခြင်း နှင့် ကင်း လွတ် စေ မည် အ
ကြောင်း သင်တို့ကိုစောင့်ရှောက်ခြင်းငှါ၎င်း၊ အ
ပြစ်မရှိဘဲ ဝမ်းမြောက်ခြင်းနှင့် ပြည့်စုံလျက်ရှိ
သောသင်တို့ကို ဘုန်းအသရေတော်ရှေ့၌ ဆက်
သခြင်းငှါ၎င်းတတ်နိုင်တော်မူသောသူတည်းဟူ
၂၅ သော၊- ငါတို့ကိုကယ်တင်တော်မူသော အရှင်၊
တဆူတည်းသောဘုရားသခင်သည်၊ငါတို့သခင်
ယေရှုခရစ်အားဖြင့်၊ ယခုမှစ၍ ကမ္ဘာအဆက်
ဆက် ဘုန်းတန်ခိုးအာနုဘော်နှင့် အစွမ်း သတ္တိ
အာဏာစက်ရှိတော်မူစေသတည်း။ အာမင်။

ရှင်ယုဒဩဝါဒစာပြီး၏။

---

# ဗျာဒိတ်ကျမ်း။

## THE REVELATION OF JOHN.

---

၁

၁ ကာလမကြာမမြင့်မှီဖြစ်ရမည်အမှုအရာများ
ကိုယေရှုခရစ်သည် မိမိအစေခံကျွန်တို့အား ပြ
စေခြင်းငှါ၊ ဘုရားသခင် အပ်ပေးတော် မူသော၊
ထိုသခင်၏ ဗျာဒိတ်တော်ကိုဆိုပေအံ့။ ထိုသခင်
သည်မိမိကောင်းကင်တမန်ကိုစေလွှတ်၍၊ မိမိအ
စေခံကျွန်ယောဟန်အား ဗျာဒိတ်တော်အရိပ်ကို
၂ ပြတော်မူ၏။-ယောဟန်သည်လည်းဘုရားသခင်
၏ နှုတ်ကပတ်တော်နှင့်ယေရှုခရစ်၏ သက်သေ
ခံတော်မူချက်ကို၊ မြင်သမျှ အတိုင်း သက်သေခံ
၃ ၏။- ကာလအချိန် ရောက်လုနီးပြီဖြစ်၍၊ ဤအ
နာဂတ္တိ ကျမ်းစကားကို ကြည့်ရှု ဖတ်ရွတ် နား
ထောင်၍၊ ရေး ထား သမျှ ထို့ ကို စောင့် ရှောက်
သောသူထိုသည်မင်္ဂလာရှိကြ၏။
၄ ငါယောဟန်သည် အာရှိပြည်၌ရှိသောအသင်း
တော်ခုနှစ်ပါးကိုကြားလိုက်ပါ၏။ပစ္စုပ္ပာန်၊ အ
တိတ်၊ အနာဂတ်ကာလ အစည် ရှိတော်မူသော
ဘုရားသခင်အထံတော်က၎င်း၊ပလ္လင်တော်ရှေ့၌
၅ ရှိသော ဝိညာဉ် ခုနှစ်ပါး အ ထံက၎င်း၊- သစ္စာ
စောင့် သော သက် သေ ခံ ဖြစ် တော် မူ ထ သော၊
သေသောသူတို့တွင်သားဦးဖြစ်တော်မူထသော၊
လောကီ ဘုရင်တို့ ၏ အထွဋ် ဖြစ် တော် မူ သော
ယေရှုခရစ်အထံတော်က၎င်း၊ကျေးဇူးတော်နှင့်
ငြိမ်သက်ခြင်းသည်သင်တို့၌ရှိပါစေသော။ ငါတို့
ကိုချစ်၍မိမိအသွေးနှင့် ငါတို့အပြစ်များကိုဆေး
၆ ကြောတော်မူ၍၊- မိမိခမည်းတော်ဘုရားသခင်
ရှေ့၌ ငါတို့ကို ရှင်ဘုရင်အရာ၌၎င်း၊ ယဇ်ပုရော
ဟိတ်အရာ၌၎င်း ခန့်ထားတော်မူသောသူသည်၊

ကမ္ဘာအဆက်ဆက်ဘုန်းအသရေ၊အစွမ်းသတ္တိ
ရှိတော်မူစေသတည်း။ အာမင်။
၇ ကြည့်ရှုလော့။ မိုဃ်းတိမ်နှင့်တကွ ကြွလာ
တော်မူသည်ဖြစ်၍၊ ကိုယ်တော်ကို ထိုးဖောက်
သောသူတို့နှင့် ရှိသမျှသော သူတို့သည် ကိုယ်
တော်ကို ရှုမြင်ရကြလိမ့်မည်။ မြေကြီးသား အ
မျိုးမျိုးရှိသမျှတို့သည်ကိုယ်တော်ကြောင့်ငိုကြွေး
မြည်တမ်းရကြလိမ့်မည်။ မှန်ပေ၏။ အာမင်။-
၈ ငါသည် အာလဖ ဖြစ်၏၊ ဩမေဃလည်းဖြစ်၏
ဟု၊အနန္တတန်ခိုးနှင့်ပြည့်စုံတော်မူ၍၊ပစ္စုပ္ပန်၊
အတိတ်၊အနာဂတ်ကာလသုံးစဉ်ရှိတော်မူသော
ထာဝရအရှင်ဘုရားသခင်မိန့်တော်မူ၏။
၉ ယေရှုခရစ်၏ ဆင်းရဲခြင်း၊ ဒုက္ခမှစ၍ နိုင်ငံ
တော်ကိုငင်၊သည်းခံတော်မူခြင်းကိုငင်၊သင်တို့
နှင့်အတူ ဆက်ဆံသောအဖော်အဖက်၊ သင်တို့
အစ်ကို ငါယောဟန်သည်၊ ဘုရားသခင်၏နှုတ်
ကပတ်နှင့်ယေရှုခရစ်၏ သက်သေခံတော်မူချက်
၁၀ ကြောင့်၊ပတ်မုကျွန်းမှာ နေရစဉ်တွင်၊- သခင်
ဘုရားနေ့၌ဝိညာဉ်တော်ကိုခံရ၍၊တံပိုးခရာအ
သံကဲ့သို့ ငါ့နောက်၌မြည်သောအသံကြီးကိုကြား
၁၁ ၏။-မြည်သောအချက်ဟူမူကား၊သင်သည်မြင်
သောအရာကို စာစောင်၌ရေးထား၍၊ ဧဖက်မြို့၊
စုမုရနမြို့၊ပေရဂံမြို့၊သွာတိရမြို့၊သာဒိမြို့၊ဖိလာဒေ
လဖိမြို့၊လောဒိကိမြို့၌ရှိသောအသင်းတော်ခုနစ်
ပါးထံသို့ပေးလိုက်လော့ဟုဆိုသတည်း။
၁၂ ထိုသို့ငါနှင့်စကားပြော၍ အသံမြည်သောသူ
ကိုမြင်ခြင်းငှါ ငါသည်လှည့်ကြည့်လျှင်၊ ရွှေမီး
၁၃ ခွက် ခုနစ်လုံးကိုငင်၊- ထိုမီးခွက် ခုနစ်လုံး အ
လယ်၌လူသားတော်နှင့်တူသောသူတဦးကိုငင်
မြင်၏။ ထိုသူသည် ခြေသို့တိုင်အောင် ဝတ်ရုံ
လျက်၊ ရင်တော်၌ရွှေခါးပန်းကိုစည်းလျက်ဖြစ်
၁၄ ၏။- ခေါင်းတော်နှင့် ဆံပင်တော်သည် ဖြူသော
သိုးမွေးကဲ့သို့ငင်၊မိုဃ်းပွင့်ကဲ့သို့ငင်ဖြူ၏။မျက်စိ
၁၅ တော်သည်လည်းမီးလျှံကဲ့သို့ဖြစ်၏။-ခြေတော်
သည်လည်းမီး၌ချွတ်ပြီးသောကြေးဝါစစ်နှင့်တူ
၏။ အသံတော်သည်လည်းသမုဒ္ဒရာသံကဲ့သို့ဖြစ်
၁၆ ၏။-လက်ျာလက်တော်သည်လည်းကြယ်ခုနစ်လုံး
ကိုကိုင်၏။ ခံတွင်းတော်ထဲကထည်းထက်သော
သန်လျက် ထွက်၏။ မျက်နှာ တော်သည် အရှိန်
တန်ခိုးနှင့်ထွန်းတောက်သောနေကဲ့သို့ဖြစ်၏။
၁၇ ထိုသူကို ငါမြင်သော အခါ၊ သေမတတ် ဖြစ်
၍ ခြေတော်ရင်း၌ လဲလျက်နေ၏။ ထိုသူ သည်
လက်ျာ လက်တော်ကို ငါ့ အပေါ်သို့ တင်လျက်၊
ကြောက်ရွံ့ခြင်းမရှိနှင့်။ ငါသည်အဦးဆုံးသော
၁၈ သူ၊နောက်ဆုံးသောသူဖြစ်၏။-အသက်ရှင်သော
သူ လည်း ဖြစ်၏။ ငါသည် အရင်သေသည် ဖြစ်
၍၊ ကမ္ဘာ အဆက်ဆက် အသက် နှင့်ပြည့်စုံ၏။
မရဏာနှင့်မရဏာနိုင်ငံကိုလည်းငါအစိုးရ၏။-
၁၉ ထို့ကြောင့်၊ သင်သည် မြင်ပြီးသော အရာတို့ကို
ငင်၊ ယခုရှိသောအရာတို့ကိုငင်၊ နောင်ဖြစ်လတံ့
၂၀ သောအရာတို့ကိုငင်ရေးထားလော့။- ငါ့လက်ျာ
လက်၌ထင်ရှားသော ကြယ်ခုနစ်လုံးနှင့် ရွှေမီး
ခွက် ခုနစ်လုံး၏ နက်နဲခြင်း အရာဟူမူကား၊ မီး
ခွက်ခုနစ်လုံးသည်အသင်းတော်ခုနစ်ပါးဖြစ်၏။
ကြယ်ခုနစ်လုံးသည်လည်း၊ထိုခုနစ်ပါးသောအ
သင်းတော်တို့ကိုအုပ်သောတမန်ဖြစ်ကြ၏။

၂

၁ ဧဖက်မြို့၌ရှိသောအသင်းတော်၏တမန်ကို၊ဤ
သို့ရေး၍ မှာလိုက်လော့။ လက်ျာလက်၌ ကြယ်
ခုနစ်လုံးကိုကိုင်၍၊ ရွှေမီးခွက်ခုနစ်လုံးအလယ်
၌သွားထသောသူ၏ အမိန့်တော်ကား၊ သင်အ
ကျင့် ကျင့်ခြင်း၊ ပင် ပန်း စွာ လုပ် ဆောင် ခြင်း၊
၂ သည်းခံခြင်းကိုငါသိ၏။-သင်သည်မတရားသော
သူတို့ကို ထက် မခံ နိုင် ကြောင်း ကို ငင်၊ တမန်
တော် မဟုတ်ဘဲ၊ တမန်တော် ဖြစ် ရောင်ဆောင်
သောသူတို့ကိုစစ်ဆေး၍၊လှည့်ဖြားသောသူဖြစ်
၃ သည်ဟု သိကြောင်းကိုငင်၊- ခန္တီနှင့် ပြည့်စုံ၍၊
ငါ၏နာမကြောင့် ဆင်းရဲခံ၍ အားမလျော့
၄ ကြောင်းကိုငင် ငါသိ၏။- သို့သော်လည်း၊ သင်
သည် ရှေးဦးစွာသော ချစ်ခြင်း မေတ္တာလျော့ပြီ
၅ ဟု၊သင်၌အပြစ်တင်စရာရှိ၏။- ထို့ကြောင့်၊သင်
သည်မည်သည့်အရပ်မှလျော့သည်ကိုအောင်း
မေ့လော့။ နောင်တရလော့။ ရှေးဦးစွာသော အ
ကျင့်ကို ကျင့်လော့။ သို့မဟုတ်၊ သင်ရှိရာသို့ ငါ
သည်အလျင်အမြန်လာမည်။နောင်တမရလျှင်၊
၆ သင်၏ မီးခွက်ကို နေရာမှ ရွှေမည်။- သို့သော်
လည်း၊ ငါမုန်းသော နိကောလ တပည့်တို့၏အ
ကျင့်ကိုသင်လည်းမုန်းသည်ဟုပြောစရာရှိ၏။-
၇ ဝိညာဉ်တော်သည်အသင်းတော်တို့အားအဘယ်
သို့မိန့်တော်မူသည်ကို၊နားရှိသောသူမည်သည်
ကားကြားပါစေ။အကြင်သူသည်အောင်မြင်၏၊
ထိုသူသည်ငါ၏ဘုရားသခင်ပရဒိသုဥယျာဉ်၌ရှိ
သောအသက်ပင်၏အသီးကို စားစေခြင်းငှါ ငါ
အခွင့်ပေးမည်။

စမုရနမြို့၌ ရှိသော အသင်းတော်၏ တမန်ကို
ဤသို့ရေး၍ မှာလိုက်လော့။ အဦးဆုံးသောသူ၊
နောက်ဆုံးသော သူတည်းဟူသော၊ အရင်သေ
၍ အသက်ရှင်လျက် ရှိသောသူ၏ အမိန့် တော်
၉ ကား၊-သင်အကျင့်ကျင့်ခြင်း၊ဒုက္ခခံခြင်း၊ဆင်းရဲ
ခြင်းကိုငါသိ၏။သို့သော်လည်း၊သင်သည်ကြွယ်
ဝပြည့်စုံ ခြင်းရှိ၏။ ယုဒ လူ ဖြစ်ရောင်ဆောင် ၍
ယုဒလူမှန်မဟုတ်၊ စာတန်၏ အပေါင်းအသင်း
ဖြစ်သောသူတို့၏ ကဲ့ရဲ့ခြင်းကိုလည်း ငါသိ၏။-
၁၀ သင်သည်ခံရမည့်အရာတစုံတခုကိုမျှမကြောက်
နှင့်။ သင် တို့ သည် စုံစမ်း ခြင်း ကို ခံရ မည် အ
ကြောင်း၊ မာရ်နတ်သည် သင်တို့တွင် အချို့ကို
ထောင်ထဲ၌ လှောင်ထား၍၊ သင်တို့သည် ဆယ်
ရက်ပတ်လုံး ဆင်းရဲ ဒုက္ခကို ခံရကြ လိမ့် မည်။
သေသည်တိုင်အောင်သစ္စာစောင့်လော့။ သို့ဖြစ်
၁၁ လျှင်၊ အသက်သရဖူကို ငါ ပေးမည်။- ဝိညာဉ်
တော်သည်အသင်းတော်တို့အားအဘယ်သို့မိန့်
တော်မူသည်ကို နားရှိ သော သူမည်သည်ကား
ကြားပါစေ။ အောင်မြင်သောသူကို ဒုတိယသေ
ခြင်းသည်မညှဉ်းဆဲရ။

၁၂ ပေရဂံမြို့၌ရှိသောအသင်းတော်၏တမန်ကိုဤ
သို့ရေး၍ မှာလိုက်လော့။ ထက်သောသန်လျက်
၁၃ ရှိသောသူ၏အမိန့်တော်ကား၊-သင်အကျင့်ကျင့်
ခြင်း ကို၎င်း၊ စာတန်၏ ရာဇ ပလ္လင် ရှိရာ အရပ်
တည်းဟူသောသင်၏နေရာအရပ်ကို၎င်းငါသိ၏။
စာတန်၏နေရာအရပ်၌သင်တို့တွင် အသေသတ်
ခြင်းကိုခံရသောအန္တိပသည် သစ္စာရှိ၍ ငါ့ဘက်
၌သက်သေခံရသောနေ့ရက်ကာလတွင်ပင်၊သင်
သည် ငါ၏ နာမကိုစွဲကိုင်၏။ ငါ၏ ယုံကြည်ခြင်း
၁၄ တရားကိုမစွန့်မပယ်။-သို့သော်လည်း၊ဣသရေ
လအမျိုးသားတို့သည်ရုပ်တုရှေ့မှာပူဇော်သော
ယဇ်ကောင်ကိုစားစေခြင်း၄ါ၎င်း၊မတရားသော
မေထုန်ကို ပြုစေခြင်း၄ါ၎င်း၊ ထိမိ၍လဲစရာအရာ
ကိုသူတို့ရှေ့၌ ချထားမည်အကြောင်း၊ ဗာလက်
မင်းကိုအကြံပေးသောသူတည်းဟူသောဗာလံ
၏အယူကို စွဲထမ်းသောသူတို့သည် သင်၏နေရာ
၌ရှိကြသည်ဖြစ်၍၊ သင်၌အနည်းငယ်သောအ
၁၅ ပြစ်တင်စရာရှိ၏။-ထိုအယူနှင့်သဘောတူသော
နိကောလတပည့်တို့၏ အယူကိုစွဲလမ်းသောသူ
၁၆ တို့သည် ထိုနည်းတူသင်၌ရှိကြ၏။- ထိုကြောင့်
နောင်တရလော့။မရလျှင်သင်ရှိရာသို့ငါ သည်အ
လျင်အမြန်လာမည်။ ထိုသူတို့ကိုငါ့ခံတွင်း၏သန်
၁၇ လျက်နှင့်စစ်တိုက်မည်။- ဝိညာဉ်တော်သည်အ
သင်းတော်တို့အားအဘယ်သို့ မိန့်တော်မူသည်
ကို၊နားရှိသောသူမည်သည်ကားကြားပါစေ။အ
ကြင်သူသည် အောင်မြင်၏၊ ဝှက်ထားသောမန္န
ကို၎င်း၊ ကျောက်ဖြူ လက်ခွဲကို၎င်း၊ ထိုကျောက်
ပေါ်၌ အက္ခရာတင်သော နာမသစ်ကို၎င်း ထိုသူ
အား ငါပေးမည်။ ထိုကျောက်ကိုရသောသူမှတ
ပါးအဘယ်သူမျှထိုနာမကိုမသိနိုင်ရာ။

၁၈ သွာတိရမြို့၌ရှိသောအသင်းတော်၏တမန်ကို
ဤသို့ ရေး၍ မှာလိုက်လော့။ မီးလျှံကဲ့သို့ သော
မျက်စိနှင့် ၎င်း၊ ကြေးဝါစစ်နှင့် တူသော ခြေနှင့်
၎င်း၊ပြည့်စုံသောဘုရားသခင်သားတော်၏အမိန့်
၁၉ တော်ကား၊-သင်အကျင့်ကျင့်ခြင်း၊ ချစ်ခြင်း၊အ
မှုဆောင်ခြင်း၊ ယုံကြည်ခြင်း၊ သည်းခံခြင်းကို
၎င်း၊နောက်ကျင့်သောအကျင့်တို့သည်အရင်ကျင့်
သောအကျင့်ထက်သာ၍များကြောင်းကို၎င်းငါ
၂၀ သိ၏။-သို့သော်လည်း၊ငါ၏အစေခံကျွန်တို့သည်
မတရားသော မေထုန်ကိုပြုစေခြင်း၄ါ၎င်း၊ ရုပ်တု
ရှေ့မှာ ပူဇော်သော ယဇ်ကောင်ကို စားစေခြင်း
၄ါ၎င်း၊ ပရောဖက်မတူ၍ကိုယ်ကိုခေါ်ဝေါ်သော
သင်၏ခင်ပွန်းယေဇဗေလသည်၊ သွန်သင်၍ မှား
ယွင်း စေရသောအခွင့်ကို သင်သည် ပေးသော
၂၁ ကြောင့်၊သင်၌အပြစ်တင်စရာရှိ၏။- နောင်တရ
သင့်သောကာလကိုငါပေးသော်လည်း၊သူသည်
မိမိ မတရားသော မေထုန်ကို နောင်တရချင်သော
၂၂ စိတ်မရှိ။- ထိုကြောင့်၊သူကိုအိပ်ရာ၌ ငါချထား
မည်။ သူနှင့်အတူ မတရားသောမေထုန်ကိုပြု၍၊
ထိုသို့သောအကျင့်ကိုနောင်တမရသောသူတို့ကို
ထည်း၊ ကြီးစွာသော ဆင်းရဲခြင်းသို့ ရောက်စေ
၂၃ မည်။- သူ၏သားသမီးတို့ကိုထည်း အသေသတ်
မည်။ငါသည်နှလုံးကျောက်ကပ်ကိုစစ်ဆေးတော်
မူသောသူ ဖြစ်ကြောင်းကို၊ ထိုသို့ သော အသင်း
ခပ်သိမ်းသော အသင်းတော် တို့သည် သိရကြ
လိမ့်မည်။ သင်တို့သည်အသီးအသီးကျင့်သောအ
ကျင့်နှင့်အလျောက်အကျိုးအပြစ်ကိုငါပေးမည်။
၂၄ ထိုမိစ္ဆာဒိဋ္ဌိအယူကို ယူသောသူတို့ ခေါ်ဝေါ်
သည်နှင့်အညီ၊ စာတန်၏ နက်နဲသော အရာတည်း
ခေါ်ဝေါ်သောအရာတို့ကိုမကျွမ်း၊ထိုမိစ္ဆာဒိဋ္ဌိအ
ယူကိုမယူ၊ ကြွင်းသောသွာတိရမြို့သားတို့ကိုငါ
ဆိုသည်ကား၊ သင်တို့သည် ရသမျှကို ငါလာ
၂၅ သည်တိုင်အောင် စွဲကိုင်ကြလော့။- ထိုမှတပါး
အခြားသောဝန်ကို သင်တို့အပေါ်၌ ငါမတင်။-

၂၆ အကြင်သူသည် အောင်မြင်၍အဆုံးတိုင်အောင်
ငါ့အကျင့်ကိုကျင့်၏၊ ခမည်းတော်သည်ငါ့အား
အခွင့်ပေးတော်မူသကဲ့သို့၊ လူမျိုးတို့ကိုအုပ်စိုး
စေခြင်းငှါထိုသူအားငါသည် အခွင့်ပေးမည်။-
၂၇ ထိုသူသည် သူတို့ကိုသံလှံတံနှင့် အုပ်စိုး၍၊ မြေ
၂၈ အိုးကိုခွဲဖျက်သကဲ့သို့ခွဲဖျက်လိမ့်မည်။- မိုဃ်း
သောက်ကြယ်ကိုလည်းထိုသူအားငါပေးမည်။-
၂၉ ဝိညာဉ်တော်သည် အသင်းတော်တို့အား အ
ဘယ်သို့မိန့်တော်မူသည်ကို နားရှိသော သူမည်
သည်ကားကြားပါစေ။

၂

၁ ဧဖက်မြို့၌ရှိသော အသင်းတော်၏တမန်ကို ဤ
သို့ရေး၍မှာလိုက်လော့။ ဘုရားသခင်၏ဝိညာဉ်
ခုနစ်ပါးနှင့် ကြယ်ခုနစ်လုံး ရှိသောသူ၏ အမိန့်
တော်ကား၊သင်၏အကျင့်ကိုငါသိ၏၊ သင်သည်
အသက်ရှင်ဟန်ရှိသော်လည်းသေလျက်နေသည်
၂ ကိုငါသိ၏။-မအိပ်ဘဲစောင့်၍နေလော့။ကျန်ရစ်
၍သေလုသောအရာတို့ကို ပြုစုလော့၊ သင်၏အ
ကျင့်သည် ငါ၏ဘုရားသခင်ရှေ့၌ မစုံမလင်ရှိ
၃ သည်ကို ငါတွေ့ပြီ။- ထိုကြောင့်၊ သင်သည် ခံ
ယူ၍နားထောင်ပြီးသည်အရာကို အောင်းမေ့၍
စောင့်ရှောက်လော့၊ နောင်တရလော့၊ စောင့်၍
မနေလျှင်၊ သူခိုးကဲ့သို့ သင်ရှိရာသို့ ငါလာမည်၊
၄ လာမည့်အချိန်နာရီကိုလည်း သင်မသိရ။- သို့
သော်လည်း၊ သာဒိမြို့၌ပင်သင်တို့တွင်ကိုယ်အ
ဝတ်ကို မညစ်ညူးစေသောသူနည်းနည်း ရှိသေး
၏၊ထိုသူတို့သည်ထိုက်တန်သောသူဖြစ်၍၊ အဖြူ
ဝတ်လျက် ငါနှင့်အတူ သွားလာကြလိမ့်မည်၊
အောင်မြင်သောသူသည်ဖြူသောအဝတ်ကိုဝတ်
၅ ဆင်လိမ့်မည်။-ထိုသူ၏နာမကိုအသက်စာစောင်
မှငါသည်အလျှင်းမချေ၊ခမည်းတော်ရှေ့၌၎င်း၊
ကောင်းကင်တမန်တော်တို့ရှေ့၌၎င်း၊သူ၏နာမကို
၆ ငါဝန်ခံမည်။-ဝိညာဉ်တော်သည်အသင်းတော်
တို့အား အဘယ်သို့ မိန့်တော်မူသည်ကို နားရှိ
သောသူမည်သည်ကားကြားပါစေ။
၇ ဖိလဒေလဖိမြို့၌ရှိသောအသင်းတော်၏တမန်
ကို ဤသို့ ရေး၍ မှာလိုက်လော့၊ သန့်ရှင်းသော
သူ၊ ဟုတ်မှန်သောသူ၊ ဒါဝိဒ်မင်း၏တံခါးသော့
ကိုကိုင်သောသူ၊ အဘယ်သူမျှမပိတ်နိုင်အောင်
ဖွင့်၍၊ အဘယ်သူမျှမဖွင့်နိုင်အောင်ပိတ်သော
၈ သူ၏အမိန့်တော်ကား၊- သင်၏ အကျင့်ကိုငါသိ
၏၊ အဘယ်သူမျှ မပိတ်နိုင်သောတံခါးကိုသင့်
ရှေ့၌ငါဖွင့်ထားပြီ။အကြောင်းမူကား၊သင်သည်
အနည်းငယ်သောခွန်အားရှိသည်နှင့်၊ငါ၏နှုတ်
၉ ကပတ်ကိုစောင့်ရှောက်ခဲ့ပြီ။-ငါ၏နာမကိုလည်း
မငြင်းမပယ်။ ယုဒလူ ဖြစ်ရောင်ဆောင်၍အမှန်
မဟုတ်ဘဲ၊ မုသာစကားကိုပြောသောသူ တည်း
ဟူသော၊စာတန်၏အပေါင်းအသင်းဝင်သူအချို့
တို့ကို သင့်၌ ငါအပ်ပေးမည်။ သူတို့သည်လာ၍
သင်၏ခြေရင်း၌ပြပ်ဝပ်စေခြင်းငှါ၎င်း၊ ငါသည်
သင့်ကိုချစ်သည်ဟုသိစေခြင်းငှါ၎င်းငါပြုမည်။-
၁၀ သင်သည်ငါ၏သည်းခံခြင်းနှင့်ဆိုင်သောနှုတ်
ကပတ် တရားကို စောင့်ရှောက် သောကြောင့်၊
မြေကြီးအပေါ်၌ နေသော သူ တို့ကို စုံစမ်း စေ
ခြင်းငှါ၊ လောကီနိုင်ငံအရပ်ရပ်တို့ကိုနှံ့ပြားလ
တံ့သော စုံစမ်းရာကာလတွင်၊ သင့်ကို ငါစောင့်
၁၁ ရှောက်မည်။- ငါသည်အလျှင်အမြန်လာမည်၊
သင်၏သရဖူကိုအဘယ်သူမျှမယူစေခြင်းငှါ၊ရခဲ့
၁၂ ပြီးသောအရာကိုစွဲကိုင်လော့။-အကြင်သူသည်
အောင် မြင် ၏၊ ထို သူကို ငါ သည် ငါ ၏ ဘုရား
သခင်ဗိမာန် တော်၌ တိုင်ဖြစ်စေမည်၊ နောက်
တဖန်သူသည် ပြင်သို့မထွက်ရ၊ ငါ၏ဘုရားသခင်
နာမတော်ကို၎င်း၊ ငါ၏ ဘုရားသခင် အထံတော်
မှ ထွက် ၍ ကောင်း ကင် ဘုံမှ ဆင်း သက်သော
ယေရုရှလင်မြို့သစ် တည်းဟူသော၊ ငါ၏ဘုရား
သခင်မြို့တော်၏နာမကို၎င်း၊ငါ၏နာမသစ်ကို၎င်း၊
၁၃ ထိုသူအပေါ်၌ငါသည်အက္ခရာတင်မည်။-ဝိညာဉ်
တော်သည် အသင်းတော် တို့ အား အဘယ်သို့
မိန့်တော် မူသည် ကို နားရှိ သော သူ မည်သည်
ကားကြားပါစေ။
၁၄ လောဒိကိမြို့၌ ရှိသောအသင်းတော်၏တမန်
ကို ဤ သို့ ရေး၍ မှာလိုက်လော့၊ ဘုရားသခင်၏
ဖန်ဆင်းခြင်းအမှု၏အစ၊ သစ္စာရှိ၍ဟုတ်မှန်
သောသက်သေခံ၊ အာမင်၏အမိန့်တော်ကား၊-
၁၅ သင်၏အကျင့်ကိုငါသိ၏၊သင်သည်အအေးမဟုတ်၊
အပူမဟုတ် သည်ကို ငါသိ၏၊ အေးခြင်းဖြစ်စေ၊ ပူ
၁၆ ခြင်းဖြစ်စေ၊တခုခုကိုငါအလိုရှိ၏။- ထိုသို့အအေး
မဟုတ်၊ အပူမဟုတ်၊ နွေးရုံရှိသောကြောင့်ငါ၏ခံ
၁၇ တွင်းသည်သင့်ကို ထွေးလုပြီ။- သင်ကလည်း၊
ငါသည်ဥစ္စာရတတ်၏။ဘဏ္ဍာများကိုဆည်းပူး
ပြီ။တစုံတခုကိုမျှမလိုဟုပြောဆို၍၊ ကိုယ်တိုင်
ပင်ပန်းခြင်း၊သနားဖွယ်ဖြစ်ခြင်း၊ဆင်းရဲခြင်း၊
မျက်စိကန်းခြင်း၊ အဝတ်အချည်းစည်း ရှိခြင်း
၁၈ ဖြစ်သည်ကိုမသိပါတကား။- သင်သည်ဥစ္စာရ

တတ်ခြင်းငှါ၊ မီးနှင့်ချွတ်ပြီးသောရွှေကိုငှင်၊ အ
ဝတ်အချည်းစည်းရှိ၍၊ သူတပါးရှေ့တွင်မရှက်
စေခြင်းငှါချုံစရာဘို့၊ ဖြူသောအဝတ်ကိုငှင်ထံ
မှာဝယ်လော့။သင်၏မျက်စိမြင်စေခြင်းငှါ၊ မျက်
စိ၌မျက်စည်းခတ်လော့ဟု၊ သင့်အား ငါသည်
၁၉ အကြံပေး၏။- ငါချစ်သမျှသောသူတို့၏အပြစ်
ကိုငါစစ်ဆေး၍သူတို့ကိုဆုံးမတတ်၏။ထိုကြောင့်
ကိုယ်စိတ်ကိုကိုယ်နှိုးဆော်လော့၊ နောင်တရ
၂၀ လော့။-ငါသည်တံခါးရှေ့မှာရပ်၍ခေါက်လျက်
နေ၏၊ အကြင်သူသည် ငါ၏အသံကိုကြား၍
တံခါးကိုဖွင့်အံ့၊ထိုသူရှိရာသို့ငါဝင်၍သူနှင့်အ
တူစားသောက်မည်။သူသည်လည်းငါနှင့်အတူ
၂၁ စားသောက်ရလိမ့်မည်။-ငါသည်အောင်မြင်၍၊
ငါ့ခမည်းတော်၏ ပလ္လင်တော်ပေါ်မှာ ခမည်း
တော်နှင့်အတူထိုင်နေသကဲ့သို့၊အောင်မြင်သော
သူသည် ငါ၏ပလ္လင်ပေါ်မှာငါနှင့်အတူထိုင်နေရ
၂၂ သောအခွင့်ကိုငါပေးမည်။-ဝိညာဉ်တော်သည်
အသင်းတော်တို့အား အဘယ်သို့မိန့်တော်မူ
သည်ကိုနားရှိသောသူမည်သည်ကားကြားပါ
စေဟုမိန့်တော်မူ၏။

၄

၁ ထို့နောက်မှ ငါကြည့်လျှင်၊ ကောင်းကင်၌
တံခါးဖွင့်ထားလျက်ရှိ၏၊ရှေဦးစွာကြားရသော
အသံဟူမူကား၊ ဤအရပ်သို့တက်လော့၊ နောင်
ကာလ၌ ဖြစ်ရမည်အရာတို့ကို ငါပြမည်ဟု၊ ငါ
နှင့်ပြောလျက်ရှိသော တံပိုးခရာသံကဲ့သို့မြည်
၂ လေ၏။- ထိုအခါဝိညာဉ်တော်ကို ငါသည်ချက်
ချင်းခံရ၍၊ ကောင်းကင်ဘုံ၌ ပလ္လင်တခုတည်
လျက်ရှိ၏။ ပလ္လင်ပေါ်မှာ ထိုင်သောသူထည်းရှိ
၃ ၏။- ထိုသူ၏ အဆင်းအရောင်သည် နဂါးသွဲ
ကျောက်၊ ပတ္တမြားကျောက်နှင့်တူ၏။ပလ္လင်၏
ပတ်ဝန်းကျင်၌ကား၊ မြကျောက် အဆင်းအ
၄ ရောင်နှင့်တူသော သက်တံ့ရှိ၏။- ထိုပလ္လင်၏
ပတ်ဝန်းကျင်၌ အခြားသောပလ္လင် နှစ်ဆယ်
လေးပလ္လင်ရှိ၏။ ထိုပလ္လင်တို့အပေါ်၌၊အသက်
ကြီးသူ နှစ်ဆယ်လေးပါးတို့သည် ဖြူသောအ
ဝတ်ကိုဝတ်ဆင်လျက်၊ ခေါင်းပေါ်၌ရွှေသရဖူ
၅ ကိုဆောင်းလျက်ထိုင်နေကြ၏။- ပလ္လင်တော်ထဲ
ကလျှပ်စစ်ပြက်၏။စကားပြောသံ၊မိုဃ်းကြိုးသံ
လည်းမြည်၏၊ ပလ္လင်တော်ရှေ့၌ ဘုရားသခင်၏
ဝိညာဉ်ခုနှစ်ပါးတည်းဟူသောမီးခွက်ခုနှစ်လုံး
တို့သည်ထွန်းလျက်ရှိကြ၏။
၆ ပလ္လင်တော်ရှေ့၌ထည်းကျောက်သလင်းနှင့်
တူသောဖန်ရေကန်ရှိ၏။ ပလ္လင်တော်၏အတွင်း
၌၎င်၊ ပတ်ဝန်းကျင်၌၎င်၊ မျက်စိနှင့် တကိုယ်
၇ လုံးပြည့်သောသတ္တဝါလေးပါးရှိ၏။- ပဌမ
သတ္တဝါသည် ခြင်္သေ့နှင့်တူ၏။ ဒုတိယသတ္တဝါ
သည် နွားသငယ်နှင့်တူ၏။ တတိယသတ္တဝါ
သည် လူမျက်နှာရှိ၏။ စတုတ္ထသတ္တဝါသည်ပျံ
၈ လျက်ရှိသောရွှေလင်းတနှင့်တူ၏။- ထိုသတ္တဝါ
လေးပါးတို့၏ကိုယ်ပတ်ဝန်းကျင်၌၊တပါးတပါး
လျှင် အတောင်ခြောက်ခုစီရှိ၍၊ အတွင်း၌မျက်
စိနှင့်ပြည့်ကြ၏။ သူတို့ကလည်း၊ အနန္တတန်ခိုး
နှင့်ပြည့်စုံ၍၊ပစ္စုပ္ပန်၊အတိတ်၊ အနာဂတ်ကာ
လအစည်ရှိတော်မူသော ထာဝရအရှင်ဘုရား
သခင်သည်၊သန့်ရှင်းတော်မူ၏၊ သန့်ရှင်းတော်
မူ၏၊သန့်ရှင်းတော်မူ၏ဟု၊နေ့ညဉ့်မပြတ်ငြိမ်၍
၉ မနေဘဲပြောဆိုကြ၏။- ပလ္လင်တော်ပေါ်မှာ ထိုင်
၍၊ကမ္ဘာအဆက်ဆက်အသက်ရှင်တော်မူသော
သူ၏ ဘုန်းအသရေ၊ ဂုဏ်ကျေးဇူးတော်ကို ထို
၁၀ သတ္တဝါတို့သည်ချီးမွမ်းကြသောအခါ။-အသက်
ကြီးသူ နှစ်ဆယ်လေးပါးတို့သည် ပလ္လင်တော်
ပေါ်မှာ ထိုင်တော်မူသောသူရှေ့၌ပြပ်ဝပ်လျက်၊
ကမ္ဘာအဆက်ဆက်အသက်ရှင်တော်မူသောသူ
၁၁ ကိုကိုးကွယ်လျက်၊- အို ထာဝရဘုရား၊ ကိုယ်
တော်သည် ခပ်သိမ်းသောအရာတို့ကိုဖန်ဆင်း
တော်မူပြီ။ ထိုအရာတို့သည်အလိုတော်ကြောင့်
ဖြစ်၍ ဖန်ဆင်းလျက်ရှိကြပါ၏။ ထိုကြောင့်၊
ကိုယ်တော်သည်ဘုန်းအသရေတန်ခိုးတော်ကို
ခံစားထိုက်တော်မူ၏ဟု လျှောက်ဆို၍၊ ပလ္လင်
တော်ရှေ့၌မိမိတို့သရဖူများကိုချထားကြ၏။

၅

၁ ထိုအခါ တဖက်တချက်၌ အက္ခရာတင်၍ တံ
ဆိပ်ခုနှစ်ချက်ခတ်သောစာစောင်ကိုပလ္လင်တော်
ပေါ်မှာ ထိုင်တော်မူသောသူ၏လက်ျာလက်၌ငါ
၂ မြင်၏။-အားကြီးသောကောင်းကင်တမန်တပါး
က၊ ထိုစာစောင်ကို ဖွင့်၍ တံဆိပ်တို့ကိုခွာခြင်း
ငှါအဘယ်သူထိုက်သနည်းဟု၊ကြီးသောအသံ
၃ နှင့်ကြွေးကြော်လျက်ရှိသည်ကိုငါမြင်၏။-ထိုစာ
စောင်ကိုဖွင့်၍ကြည့်ခြင်းငှါ၊ ကောင်းကင်၊ မြေ
ကြီး၊မြေကြီးအောက်၌အဘယ်သူမျှမတတ်နိုင်။
ထိုစာစောင်ကို ဖွင့်၍ ကြည့်ထိုက်သောသူတ
ယောက်ကိုမျှရှာ၍မတွေ့သောကြောင့်၊ငါသည်
၄ များစွာငိုကြွေးလေ၏။- ထိုအခါ အသက်ကြီး

သောသူတပါးက၊ မငိုကျွေးနှင့်။ ယုဒအမျိုးချင်
သေ့တည်းဟူသော၊ ဒါဝိဒ်၏အမြစ်သည်ထိုစာ
၅ စောင်ကိုဖွင်၊-တံဆိပ်ခုနှစ်ချက်တို့ကိုဖွင့်ခြင်း
ငှါအောင်မြင်လေပြီဟုငါ့ကိုပြောဆို၏။
၆ ထိုအခါပလ္လင်တော်မှစသော၊ သတ္တဝါလေး
ပါးနှင့် အသက်ကြီးသူတို့အလယ်၌၊ အသေ
သတ်ပြီးသကဲ့သို့သောသိုးသငယ်သည်ရပ်
လျက်ရှိသည်ကိုငါမြင်၏။ ထိုသိုးသငယ်သည်၊
မြေကြီးတပြင်လုံး၌လွှတ်သောဘုရားသခင်၏
ဝိညည်ခုနှစ်ပါးတည်းဟူသော မျက်စိခုနှစ်လုံး
၇ နှင့်၊ဦးခုနှစ်ချောင်းရှိ၏။-သူသည်လာ၍၊ပလ္လင်
တော်ပေါ်မှာ ထိုင်တော်မူသောသူ၏ လက်ျာ
၈ လက်မှစာစောင်ကိုခံယူလေ၏။- ထိုစာစောင်ကို
ခံယူသောအခါ၊ သတ္တဝါလေးပါးနှင့် အသက်
ကြီးသူနှစ်ဆယ်လေးပါးတို့သည်၊ သန့်ရှင်းသူ
တို့၏ပဌနာတည်းဟူသော မီးမွှေးရာနံ့သာပေါင်း
နှင့်ပြည့်သောရွှေဖလားတို့ကိုငင်၊ စောင်းတို့ကို
ငင်အသီးအသီးကိုင်၍၊ သိုးသငယ်ရှေ့၌ပြပ်
၉ ဝပ်လျက်၊- ကိုယ်တော်သည် အသေသတ်ခြင်း
၁၀ ကိုခံတော်မူသောအားဖြင့်၊ အသီးအသီးအာ
သာစကားကိုပြောသောလူအမျိုးအနွယ်ခပ်
သိမ်းတို့အထဲမှ အကျွန်ုပ်တို့ကိုယူ၍၊ အသွေး
တော်နှင့် ဘုရားသခင်အဖို့ ရွေးနှုတ်တော်မူ၏။
အကျွန်ုပ်တို့၏ ဘုရားသခင်ရှေ့မှာ၊ ရှင်ဘုရင်အ
ရာ၌ငင်၊ယဇ်ပုရောဟိတ်အရာ၌ငင်ခန့်ထား၍၊
မြေကြီးပေါ်မှာ စိုးစံရသော အခွင့်ကိုပေးတော်
မူ၏။ ထိုကြောင့်၊ကိုယ်တော်သည်စာစောင်ကိုခံ
ယူ၍ တံဆိပ်တို့ကိုဖွင့်ထိုက်တော်မူ၏ဟု၊ အ
၁၁ သစ်သောသီချင်းကိုသီ၍လျှောက်ဆိုကြ၏။-ထို
အခါငါကြည့်၍၊ ပလ္လင်တော်မှစသောသတ္တဝါ
တို့နှင့် အသက်ကြီးသူတို့၏ ပတ်ဝန်းကျင်၌၊
ကုဋေသင်္ချေမက၊ အတိုင်းမသိများစွာသော
၁၂ ကောင်းကင်တမန်တို့၏အသံကိုငါကြား၏။- ထို
သူတို့ကလည်း၊အသေသတ်ခြင်းကိုခံခဲ့ပြီးသော
သိုးသငယ်သည်၊တန်ခိုး၊ စည်းစိမ်၊ ပညာ၊ အ
စွမ်းသတ္တိ၊ ဂုဏ်အသရေ၊ ဘုန်းအာနုဘော်၊
ကောင်းကြီးမင်္ဂလာကိုခံထိုက်တော်မူ၏ဟု၊ကြီး
၁၃ သောအသံနှင့်ပြောဆိုကြ၏။-ကောင်းကင်၊ မြေ
ကြီး၊မြေကြီးအောက်၊သမုဒ္ဒရာအထဲ၊အရပ်ရပ်
တို့၌ရှိရှိသမျှသောဝေနေယျသတ္တဝါ အပေါင်း
တို့က၊ ပလ္လင်တော်ပေါ်မှာ ထိုင်တော်မူသောသူ
နှင့်သိုးသငယ်သည်ကမ္ဘာအဆက်ဆက်ကောင်း
ကြီးမင်္ဂလာ၊ဂုဏ်အသရေ၊ဘုန်းအာနုဘော်၊အ
စွမ်းသတ္တိရှိတော်မူစေသတည်းဟု၊ ပြောဆိုကြ
၁၄ သည်ကိုငါကြားလေ၏။- သတ္တဝါလေးပါးတို့
ကလည်း၊ အာမင်ဟုခေါ်ဝေါ်ကြ၏။ အသက်
ကြီးသူတို့သည်လည်း၊ပြပ်ဝပ်၍ကိုးကွယ်ကြ၏။

၆

၁ သိုးသငယ်သည်တံဆိပ်ခုနှစ်ချက်တွင်တချက်
ကိုဖွင့်သောအခါ ငါကြည့်လျှင်၊ မိုဃ်းကြိုးသံ
မြည်သကဲ့သို့၊ သတ္တဝါလေးပါးတွင်တပါးက၊
လာ၍ကြည့်လော့ဟု ဆိုသည်ကို ငါကြား၏။-
၂ ထိုအခါငါကြည့်လျှင်၊မြင်းဖြူတစီးရှိ၏။ မြင်းစီး
သောသူသည်လေးကိုကိုင်၏၊ သူ၌သရဖူကိုပေး
တော်မူ၏။အောင်မြင်လျက်ငင်၊ အောင်မြင်ခြင်း
ငှါငင်ထွက်သွား၏။
၃ ဒုတိယတံဆိပ်ကို ဖွင့်သောအခါ၊ ဒုတိယ
သတ္တဝါက၊ လာ၍ကြည့်လော့ဟုဆိုသည်ကို
၄ ငါကြား၏။- ထိုအခါ မြင်းနီတစီးထွက်၍၊ စီး
သောသူသည် ငြိမ်ဝပ်ခြင်းကို မြေကြီးကရုပ်
သိမ်းခြင်းငှါငင်၊မြေကြီးသားတို့ကိုအချင်းချင်း
အသေသတ်စေခြင်းငှါငင်အခွင့်ရ၏။ သူ၌ထား
ကြီးကိုပေးတော်မူ၏။
၅ တတိယတံဆိပ်ကိုဖွင့်သောအခါ၊ တတိယ
သတ္တဝါက၊လာ၍ကြည့်လော့ဟုဆိုသည်ကိုငါ
ကြား၏။ ထိုအခါငါကြည့်လျှင်၊ မြင်းနက်တစီး
ရှိ၏။ မြင်းစီးသောသူသည် ချိန်ခွင်ကိုကိုင်၏။-
၆ သတ္တဝါလေးပါးအလယ်၌ပြောသံဟူမူကား၊
ဒေနာရိတပြားနှင့်ဂျုံဆန်တခွက်ကိုရ၏။မုယော
ဆန်သုံးခွက်ကိုရ၏။ ဆီနှင့်စပျစ်ရည်ကိုမပျက်
စေနှင့်ဟုဆိုသည်ကိုငါကြား၏။
၇ စတုတ္ထတံဆိပ်ကို ဖွင့်သောအခါ၊ စတုတ္ထ
သတ္တဝါက၊လာ၍ကြည့်လော့ဟုဆိုသည်ကိုငါ
၈ ကြား၏။-ထိုအခါငါကြည့်လျှင်၊ မြင်းမွဲတစီးရှိ
၏။ မြင်းစီးသောသူသည် မရဏာဟူသောအ
မည်ရှိ၏။ မရဏာနိုင်ငံသည် ထိုသူနောက်သို့
လိုက်လေ၏။ သူသည်မြေကြီးလေးစိတ်တစိတ်
ကိုအစိုးရ၍ထားဘေး၊ မွတ်သိပ်ခြင်းဘေး၊ နာ
၍သေဘေး၊ မြေသားရဲဘေးအားဖြင့်သတ်နိုင်
သောအခွင့်ကိုရ၏။
၉ ပဉ္စမတံဆိပ်ကိုဖွင့်သောအခါ၊ဘုရားသခင်
၏နှုတ်ကပတ်တော်ကြောင့်ငင်၊မိမိတို့သက်သေ
ခံချက်ကြောင့်ငင်၊အသေသတ်ခြင်းကိုခံရသော
သူတို့၏ ဝိညည်များကိုယဇ်ပလ္လင်အောက်၌ငါ

၁၀ မြင်၏။-သူတို့ကလည်း၊ ထန့်ရှင်းထုတ်မှန်၍အ
မိုးပိုင်တော်မူသောအရှင်၊ မြေပေါ်မှာ နေသော
သူတို့ သည် ငါတို့ အသွေးကို သွန်း ကြသောအ
ပြစ် နှင့် အလျောက် ဒါဏ် မပေး ဘဲ အ ထယ် မျှ
လောက်ကာလပတ်လုံးနေတော်မူမည်နည်းဟု၊
၁၁ ကြီးသောအသံ နှင့်ကျွေးကြော်ကြ၏။- ထိုသူတို့
၌ဖြူသော ဝတ်လုံကို ပေးတော်မူ၏။ သူတို့နည်း
တူ အသေသတ်ခြင်းကို ခံရလတ့ံသော၊ မိမိလုပ်
ဖော်ဆောင်ဖက် ညီအစ်ကိုတို့သည်ပြည့်စုံခြင်း
သို့မရောက်မှီ၊ ခဏငြိမ်သက်စွာနေရကြဦးမည်
ဟု၊သူတို့အားမိန့်တော်မူ၏။
၁၂ ဆဌမတံဆိပ်ကိုဖွင့်သောအခါငါကြည့်လျှင်၊
ကြီးစွာသောမြေလှုပ်ခြင်းဖြစ်၏။နေသည်အမွေး
ဖြင့်ရက်သောအဝတ်ကြမ်းကဲ့သို့မည်း၏။လအ
၁၃ လုံးသည်အသွေးကဲ့သို့ဖြစ်၏။- သင်္ဘောသဖန်း
ပင်ကိုပြင်းစွာသောလေတိုက်လျှင်၊အချိန်မတန်
သောအသီးကြွေသကဲ့သို့၊ကောင်းကင်ကြယ်တို့
၁၄ သည်မြေပေါ်သို့ ကျကြ၏။- မိုဃ်းကောင်းကင်
သည်စာစောင်လိပ်သကဲ့သို့လွင့်သွား၏။တောင်
များ၊ ကျွန်းများအပေါင်းတို့သည် မိမိတို့ နေရာ
၁၅ အရပ်မှရွေ့ကြ၏။-လောကီဘုရင်၊ မှူးမတ်၊ စစ်
သူကြီး၊ သူဌေး၊ သူကြွယ်၊ ခွန်အားကြီးသောသူ
မှစ၍ကျွန်များ၊ လူလွတ်များအပေါင်းတို့သည်၊
မြေတွင်း၌၎င်၊ တောင်ပေါ်မှာ ရှိသော ကျောက်
များ၌၎င်ပုန်းရှောင်လျက်နေ၍၊ထိုတောင်များ၊
၁၆ ကျောက်များတို့ကိုခေါ်လျက်၊- ငါတို့အပေါ်သို့
ကျကြပါ။ ပလ္လင်ပေါ်မှာ ထိုင်တော်မူသော သူ၏
မျက်နှာနှင့် သိုးသငယ်၏ အမျက်တော်ကိုကွယ်
၁၇ ကာ၍၊ ငါတို့ကို ဖုံးအုပ်ကြပါ။- အမျက် တော်
ထင် ရှား သော နေ့ ကြီး ရောက် ပါ ပြီ တကား၊
အဘယ်သူသည် ခံရပ်နိုင်မည်နည်းဟု ပြောဆို
ကြ၏။

၇

၁ ထိုနောက်မှမြေကြီး၊ပင်လယ်၊သစ်ပင်များတို့
၌လေမလာစေခြင်းငှါ၊ ကောင်းကင်တမန်လေး
ပါးတို့သည် မြေ၏လေးမျက်နှာ လေတို့ကို ကိုင်
၍၊ မြေလေးမျက်နှာ၌ရပ်နေသည်ကိုငါမြင်၏။-
၂ အသက်ရှင်တော်မူသော ဘုရားသခင်၏ တံဆိပ်
ပါသော ကောင်းကင် တမန် တပါး သည် အရှေ့
မျက်နှာကတက်လာသည်ကိုငါမြင်၏။ သူသည်
လည်း မြေနှင့် ပင်လယ်ကို ညှဉ်းဆဲ ရသောအ
ခွင့်ရှိသော ကောင်းကင်တမန်လေးပါးကိုအသံ
၃ ဩဇင့်၍၊- ငါတို့ဘုရားသခင်၏ကျွန်တို့ကို နဖူး ၌
တံဆိပ်မခတ်မှီတိုင်အောင်၊ မြေ၊ ပင်လယ်၊ သစ်
ပင်တို့ကို မညှဉ်းဆဲပါနှင့်ဟု၊ ကြီးသောအသံ
၄ နှင့်ကျွေးကြော်လေ၏။- တံဆိပ်ခတ်ခြင်းကိုခံရ
သောသူ အရေ အတွက်ကို ငါကြား၍၊ ဣသရေ
လအမျိုး သားထို့၌ အသီးအသီးသော အမျိုးအ
နွယ်ထဲကလူတသိန်းလေးသောင်းလေးထောင်
၅ တို့သည် တံဆိပ် ခတ်ခြင်းကို ခံရကြ၏။- ယုဒအ
မျိုးထဲကတသောင်းနှစ်ထောင်၊ ရုဗင်အမျိုးထဲ
ကတသောင်း နှစ် ထောင်၊ ဂဒ်အမျိုး ထဲက တ
၆ သောင်း နှစ် ထောင်၊- အာ ရှာ အမျိုး ထဲက တ
သောင်း နှစ် ထောင်၊ နဿလိ အမျိုး ထဲ က တ
သောင်း နှစ် ထောင်၊ မနာရှေ အမျိုး ထဲ က တ
၇ သောင်း နှစ်ထောင်၊- ရှိမောင် အမျိုးထဲက တ
သောင်းနှစ်ထောင်၊လေဝိအမျိုးထဲကတသောင်း
နှစ်ထောင်၊ ဣသခါ အမျိုးထဲက တသောင်းနှစ်
၈ ထောင်၊- ဇာဗုလုန် အမျိုးထဲက တသောင်းနှစ်
ထောင်၊ ယောသပ် အမျိုး ထဲက တသောင်း နှစ်
ထောင်၊ ဗယာ မိန် အမျိုး ထဲ က တသောင်းနှစ်
ထောင်တို့သည်တံဆိပ်ခတ်ခြင်းကိုခံရကြ၏။
၉ ထိုနောက်မှ ငါကြည့်လျှင်၊ အသီးအသီးသော
ဘာသာစကားကို ပြောသော လူ အမျိုး အနွယ်ခပ်
သိမ်းတို့ အထဲမှ ထွက်၍၊ အဘယ် သူ မျှ မရေ
တွက် နိုင်သောလူများအပေါင်းတို့သည်ဖြူသော
ဝတ်လုံကိုဝတ်ဆင်လျက်၊ စွန်ပလွံခက်ကိုကိုင်
လျက်၊ပလ္လင်တော်ရှေ့၊သိုးသငယ်ရှေ့မှာရပ်နေ
၁၀ ကြ၏။-သူတို့ကလည်း၊ပလ္လင်ပေါ်မှာထိုင်တော်
မူသောငါတို့၏ဘုရားသခင်နှင့်သိုးသငယ်သခင်၊
ကယ်တင်တော် မူခြင်း ချမ်းသာ ရှိတော်မူစေသ
တည်းဟု၊ကြီးသောအသံနှင့်ကျွေးကြော်ကြ၏။-
၁၁ ပလ္လင် တော် မှ စ သော အသက် ကြီး သူ တို့နှင့်
သတ္တဝါ လေးပါး၏ပတ်ဝန်းကျင်၌ရပ်နေသော
ကောင်း ကင် တမန် အပေါင်း တို့ သည်၊ ပလ္လင်
တော်ရှေ့မှာပြပ်ဝပ်၍ဘုရားသခင်ကိုကိုးကွယ်
၁၂ လျက်၊- အာမင်၊ ငါတို့၏ဘုရားသခင်သည်ကျေးဇူး
အဆက်ဆက်ကောင်းကြီးမင်္ဂလာ၊ ဘုန်း၊ပညာ
နှင့်တကွ ကျေးဇူး ချီးမွမ်းခြင်း၊ ဂုဏ်အသရေ၊
တန်ခိုး သတ္တိ ရှိတော်မူစေသတည်း၊ အာမင်ဟု
ပြောဆိုကြ၏။
၁၃ အသက်ကြီးသူတပါးကလည်း၊ ဖြူသောဝတ်
လုံကို ဝတ်ဆင်သော ဤသူ တို့သည် အဘယ်သူ
နည်း၊ အဘယ် အရပ်က လာကြ သနည်းဟု

၁၄ ငဒေါးမေ၏မြစ်ကြီးနားလျှင်၊- ငါကားသခင်၏ကိုထိတော်
သိပါ၏ဟုပြန်လျှောက်၏။သူကထည်း၊ဤသူတို့
သည် ကြီးစွာ သော ဆင်းရဲ ဒုက္ခအထဲက ထွက်
မြောက်၍၊မိမိတို့ဝတ်လုံကိုသိုးသငယ်၏အသွေး
၁၅ ၌လျှော်၍ ဖြူစေသောသူ ဖြစ်ကြသတည်း။- ထို
ကြောင့်၊ဘုရားသခင်၏ပလ္လင်တော်ရှေ့မှာနေရာ
ကိုရ၍၊ ဗိမာန်တော်၌ ဘုရား၀တ်ကိုနေ့ညဉ့်
မပြတ်ပြုရကြ၏၊ပလ္လင်ပေါ်မှာထိုင်တော်မူသော
၁၆ သူသည် သူတို့တွင် ကျိန်းဝပ်တော်မူမည်။- သူ
တို့သည် နောက်တဖန် ရေငတ်ကို မငတ် မ မွတ်ရ
ကြ၊ နေရောင်ခြည်အလျှင်းမထိရ၊ အပူအဟဲ
၁၇ ကိုမျှမခံရကြ။- အကြောင်းမူကား၊ပလ္လင်တော်
အတွင်း၌ရှိသောသိုးသငယ်သည်သူတို့ကိုလုပ်
ကျွေး၍၊ အသက် စမ်းရေတွင်းသို့ ထမ်း ပြလိမ့်
မည်။ ဘုရားသခင် သည် ထည်း သူတို့ မျက်စိ၌
ရှိ်ရည်ရှိသမျှတို့ကို သုတ်တော် မူမည်ဟုဆို
သတည်း။

၈

၁ သတ္တမတံဆိပ်ကို ဖွင့်သောအခါ၊ကောင်းကင်
၂ ဘုံ၌နာရီဝက်မျှတိတ်ဆိတ်စွာနေကြ၏။-ဘုရား
သခင်ရှေ့တော်၌ရပ်နေသောကောင်းကင်တမန်
ခုနစ်ပါးကိုငါမြင်၏။ သူတို့၌ တံပိုး ခုနစ်လုံးကို
၃ ပေး၏။- ကောင်းကင်တမန်တပါးသည် ထာ၍
ရွှေထင်ပန်းကိုကိုင်လျက် ယဇ်ပလ္လင်နားမှာရပ်
နေ၏။ ပလ္လင်တော်ရှေ့၌ ရှိသော ရွှေ ယဇ်ပလ္လင်
ပေါ်မှာ၊ သန့်ရှင်းသူအပေါင်းတို့၏ ပဌနာနှင့်အ
တူဆက်ကပ်ခြင်းငှါ၊ မီးရှို့သောနံ့သာပေါင်းအ
၄ များကိုထိုသူ၌ပေး၏။- မီးရှို့သောနံ့သာပေါင်း
၏အမိုးအငွေ့သည် သန့်ရှင်းသူတို့၏ပဌနာများ
နှင့်အတူကောင်းကင်တမန်၏လက်ထဲကဘုရား
၅ သခင်ရှေ့တော်သို့တက်သတည်း။- ကောင်းကင်တ
မန်သည် ထင်ပန်းကို ယူ၍ယဇ်ပလ္လင်၏ မီးနှင့်
ပြည့်စေပြီးမှ၊ မြေကြီး အပေါ်သို့ ချလိုက်သည်
ဖြစ်၍၊အသံမြည်ခြင်း၊ မိုဃ်းခြိမ်းခြင်း၊ လျှပ်စစ်
ပြက်ခြင်း၊မြေကြီးလှုပ်ခြင်းဖြစ်ကြ၏။
၆ တံပိုးခုနစ်လုံးရှိသောကောင်းကင်တမန်ခုနစ်
ပါးတို့ သည် မှုတ်အံ့သောငှါ မိမိတို့ကို ပြင်ဆင်
၇ ကြ၏။-ပဌမသူသည်တံပိုးမှုတ်သောအခါမိုဃ်း
သီးဖြစ်၏၊ အသွေးနှင့် ရောနှောသောမီးထည်း
ဖြစ်၏။မြေကြီးအပေါ်သို့ချလိုက်၍၊မြေသုံးစုတစု၊
သစ်ပင်သုံးစုတစု၊မြက်ဝေသောမြက်ပင်ရှိသမျှတို့
၈ ကိုကျွမ်းလောင်လေ၏။-ဒုတိယကောင်းကင်တ
မန်သည်တံပိုးမှုတ်သောအခါ၊မီးလောင်သော
တောင်ကြီးကို ပင်လယ်ထဲသို့ ချလိုက် သကဲ့သို့
ဖြစ်၍၊ပင်လယ်သုံးစုတစုသည်အသွေးဖြစ်၏။-
၉ ပင်လယ်၌ အသက်ရှင်သောသတ္တဝါသုံးစုတစု
ထည်းသေ၏။သင်္ဘောသုံးစုတစုလည်းပျက်၏။-
၁၀ တတိယကောင်းကင်တမန်သည်တံပိုးမှုတ်သော
အခါ၊ မီးခွက်ကဲ့သို့ ထွန်းတောက် သောကြယ်
ကြီးသည် ကောင်းကင်က ကျ၍၊ မြစ်သုံး စုတစု
၁၁ သို့၎င်း၊ စမ်းရေတွင်းသို့၎င်းရောက်၏။- ထိုကြယ်
သည်ဒေါနစွက်ဟူသောအမည်ရှိ၏။ ရေသုံးစုတ
စုသည်ဒေါနစွက်ဖြစ်၍ရေခါးသောကြောင့်၊ လူ
၁၂ အများတို့သည်သေကြ၏။- စတုတ္ထကောင်းကင်
တမန်သည်တံပိုးမှုတ်သောအခါ၊နေသုံးစုတစု၊
လသုံးစုတစု၊ကြယ်သုံးစုတစုကြတ်၍၊သုံးစုတ
စုမိုက်လေ၏။နေ့သုံးစုတစု၊ညဉ့်သုံးစုတစုသည်
၁၃ အလင်းမရှိ။- ထိုအခါငါကြည့်လျှင်၊အလင်းတ
တကောင်က၊ကြွင်းသေးသောကောင်းကင်တမန်
သုံးပါး မှုတ်လုလတံ့သော တံပိုးသံကြောင့်မြေ
ကြီးသားတို့သည် အမင်္ဂလာ၊ အမင်္ဂလာ၊ အမင်္ဂ
လာ ရှိကြ၏ဟု၊ ကောင်းကင် အလယ်၌ ပျံ၍၊
ကြီးသောအသံနှင့်ဆိုသည်ကိုငါကြား၏။

၉

၁ ပဉ္စမကောင်းကင်တမန်သည်တံပိုးမှုတ်သော
အခါ၊ကြယ်တလုံးသည်ကောင်းကင်ကမြေကြီး
ပေါ်သို့ကျသည်ကိုငါမြင်၏။သူ၌အနက်ဆုံးသော
၂ တွင်း၏သော့ကိုအပ်ပေးသည်ဖြစ်၍၊-သူသည်
အနက်ဆုံးသောတွင်းကို ဖွင့်လျှင်၊ကြီး စွာသော
မီးဖို၏ အခိုးကဲ့သို့သော အခိုးသည် တွင်းထဲက
တက်လေ၏။ထိုတွင်း၏မီးခိုးကြောင့်၊နေနှင့်အာ
ကာသ ကောင်းကင် သည် မှောင်မိုက် လေ၏။-
၃ ကျိုင်းကောင် တို့သည် မီးခိုးအထဲက မြေကြီးအ
ပေါ်သို့ထွက်၍၊ မြေကင်းမြီးကောက်တန်ခိုးကဲ့
၄ သို့သောတန်ခိုးကိုရကြ၏။-မြေ၏မြက်ပင်မှစ၍
စိမ်းသော အရာများ၊ သစ်ပင်များ အပေါင်းတို့
ကို ထား၍၊ နဖူး၌ ဘုရားသခင် ၏ တံဆိပ် ခတ်
ခြင်းကို မခံသောလူတို့ကိုသာ ညှဉ်းဆဲမည် အ
၅ ကြောင်း၊ သူတို့အား ပညတ် ထား၏။- တံဆိပ်
ခတ်ခြင်းကိုမခံသောသူတို့ကိုကား၊သတ်ရသော
အခွင့်မရှိ။ ငါးလပတ်လုံးပြင်းစွာသောဝေဒနာ
ဖြစ်စေ သော အခွင့်ရှိ၏။ ထိုကျိုင်းကောင် ဖြစ်စေ
သောဝေဒနာသည်ကား၊ ကင်းမြီးကောက်သည်
လူကိုထိုးသောဝေဒနာကဲ့သို့ဖြစ်သတည်း။

၆ ထိုနေ့ရက် ကာလ၌ လူတို့ သည် သေခြင်းကို
ရှာကြလိမ့်မည်၊ ရှာသော်လည်းမတွေ့ရကြ။ အ
လွန်သေချင်သော်လည်း၊ သေမင်းသည်သူတို့ထံ
၇ မှပြေးသွား လိမ့်မည်။- ထိုကျိုင်းကောင် တို့၏အ
ဆင်း သဏ္ဌာန် သည် စစ်တိုက် ခြင်းငှါ ပြင်ဆင်
သောမြင်း၏ အဆင်း သဏ္ဌာန်နှင့်တူ၏။ ခေါင်း
ပေါ်မှာ ရွှေသရဖူကို ဆောင်းဟန်ရှိ၏။ မျက်နှာ
၈ သည် လူမျက်နှာကဲ့သို့ဖြစ်၏။- ဆံပင်သည်မိန်း
ဆံပင် ကဲ့သို့ ဖြစ်၏။ သွားသည် လည်း ခြင်္သေ့
၉ သွားကဲ့သို့ဖြစ်၏။-ရင်အုပ်တန်ဆာသည်သံရင်
အုပ်တန်ဆာကဲ့သို့ ဖြစ်၏။ အတောင် ခတ်သော
အသံသည်စစ်တိုက်၍ပြေးလာသောမြင်းရထား
၁၀ အများ၏ အသံကဲ့သို့ ဖြစ်၏။- အမြီးသည်ကင်း
မြီးကောက်နှင့်တူ၏၊ အမြီး၌လည်းဆူးရှိ၏။ လူ
တို့ကို ငါးလ ပတ်လုံး ညှဉ်းဆဲ ရသော အခွင့်
၁၁ တန်ခိုးရှိ၏။- သူတို့၏ ရှင်ဘုရင် မူကား၊ ဟေဗြဲ
ဘာသာအားဖြင့် အဗဒ္ဒုန်ဟူ၍၎င်၊ ဟေလသ
ဘာသာအားဖြင့်အပေါလျုန်ဟူ၍၎င်ခေါ်ဝေါ်
၁၂ သော အနက်ဆိုး သော တွင်း တမန်ဖြစ်၏။- အ
မင်္ဂလာတပါးလွန်ပြီ၊ ထိုနောက်မှအမင်္ဂလာနှစ်
ပါးထာလာဦးမည်။
၁၃ ဆဋ္ဌမကောင်းကင်တမန်သည်တံပိုးမှုတ်သော
အခါ၊ ဘုရားသခင် ရှေ့တော်၌ ရှိသောရွှေ ယဇ်
ပလ္လင်၏ ဦးချိုလေးချောင်းထဲက ထွက်သောအသံ
၁၄ ကား၊-ဥဖရတ်မြစ်ကြီးနားမှာချည်နှောင်လျက်
ရှိသော ကောင်း ကင် တမန် လေးပါး ကို လွှတ်
လော့ဟု၊တံပိုးရှိသောဆဋ္ဌမကောင်းကင်တမန်
၁၅ အား ဆိုသည်ကို ငါကြား၏။- ထိုအခါ လူသုံးစု
တစုကိုအသေသတ်ခြင်းငှါ၊တနာရီ၊တရက်၊ဘ
လ၊ တနှစ်အမှီပြင်ဆင်သော ကောင်းကင်တမန်
၁၆ လေးပါးတို့ကို လွှတ်လေ၏။- မြင်းစီးသူရဲတို့၏
အရေအတွက်ကား၊ နှစ်သန်းဖြစ်၏။ ထိုအရေ
အတွက်ကိုငါကြားရ၏။
၁၇ ထိုအတူဗျာဒိတ်ရူပါရုံ၌ ထင်ရှားသောမြင်း
တို့ကို၎င်၊ ကန့်၊ မီး၊ ဝါကျသံကျောက်နှင့် ပြီး
သောရင်အုပ် တန်ဆာရှိသော မြင်းစီး သူရဲတို့
ကို၎င်ငါမြင်ရ၏။ မြင်းတို့၏ခေါင်းသည်ခြင်္သေ့
ခေါင်းကဲ့သို့ဖြစ်၏။ သူတို့၏ ခံတွင်း ထဲကလည်း
၁၈ ကန့်၊မီးလျှံ၊မီးခိုးထွက်ကြ၏။-သူတို့၏ခံတွင်းထဲ
ကထွက်သောကန့်၊မီးလျှံ၊မီးခိုးတည်းဟူသော
၁၉ ဘေးသုံးပါးကြောင့်၊လူသုံး၊စုတစုသေကြ၏။-အ
ကြောင်းမူကား၊သူတို့တန်ခိုးသည်ခံတွင်း၌၎င်၊
အမြီး၌၎င်တည်၏။ အမြီးသည်ခေါင်းနှင့်ပြည့်
စုံ၍မြွေနှင့်တူ၏။ အမြီးအားဖြင့်ညှဉ်းဆဲတတ်
၂၀ ကြ၏။- ထို ဘေးဒဏ်ကြောင့် မသေဘဲ ကြွင်း
သောလူတို့သည်နတ်တို့ကို၎င်၊မမြင်နိုင်၊မကြား
နိုင်၊ မသွားလာနိုင်သော ရွှေရုပ်တု၊ ငွေရုပ်တု၊
ကြေးနီရုပ်တု၊ကျောက်ရုပ်တု၊ သစ်သားရုပ်တု
တို့ကို၎င် မကိုးကွယ်ဘဲ နေခြင်းငှါ၊ ကိုယ်လက်
နှင့်လုပ်သောအရာများကို နောင်တမရဘဲနေကြ
၂၁ ၏။- ကိုယ်ကျင့်သော အကျင့်တည်းဟူသောလူ
အသက်ကိုသတ်ခြင်း၊ သူတပါးကိုပြုစားခြင်း၊
မတရားသောမေထုန်ပြုခြင်း၊သူ့ဥစ္စာကိုခိုးခြင်း
အမှုမှားကိုလည်းနောင်တမရဘဲနေကြ၏။

၁၀

၁ ခွန်အားကြီးသောကောင်းကင် တမန်တပါး
သည် မိုဃ်းတိမ်ကို ဝတ်လျက်၊ ကောင်းကင်က
ဆင်းသက်သည်ကို ငါမြင်၏။ သူ၏ ခေါင်းပေါ်၌
သက်တံ့ရှိ၏။ သူ၏မျက်နှာသည်နေကဲ့သို့ဖြစ်၏။
သူ၏ ခြေသည်လည်း မီးခဲ တိုင်ကဲ့သို့ ဖြစ်၏။-
၂ ဖွင့်ထားသော စာစောင်ငယ်ကို ကိုင်လျက်ရှိ၏။
လက်ျာခြေသည်ပင်လယ်ပေါ်မှာ၎င်၊လက်ဝဲခြေ
၃ သည်မြေကြီးပေါ်မှာ၎င်နင်း၍၊-ခြင်္သေ့ဟောက်
သကဲ့သို့ ကြီးသောအသံနှင့် ကျွေးကြော်လေ၏။
ကျွေးကြော်ပြီးမှ၊ မိုဃ်းကြိုးသံ ခုနစ်ချက်မြည်
၄ လေ၏။- မိုဃ်း ကြိုးသံ ခုနစ်ချက် မြည်ပြီးမှ ငါ
သည်ရေးမှတ်မည်ဟုအားထုတ်သော်၊ကောင်း
ကင်မှထွက်သောအသံကား၊မိုဃ်းကြိုးသံခုနစ်
ချက်မြည်သောအရာကိုတံဆိပ်ခတ်လော့။ မရေး
၅ မမှတ်နှင့် ဟု ဆိုသည်ကို ငါကြား၏။- ထိုအခါ
ငါမြင်၍ မြေနှင့်ပင်လယ်ပေါ်မှာ ရပ်နေသော
ကောင်းကင်တမန်သည်၊လက်ျာလက်ကိုကောင်း
၆ ကင်သို့ ချီပြီးလျှင်၊- ဘုရား သခင်၏ ကျွန်တော်
၇ မျိုးပရောဖက်တို့အား ဝမ်းမြောက်စရာသတင်း
ကိုဗျာဒိတ် ထား၊တော်မူသည်နှင့်စပ်ဆိုင်သော၊
ဘုရားသခင်၏ နက်နဲသော အရာသည်၊ ကာလ
မနှေးဘဲ၊ သတ္တမကောင်းကင်တမန် တံပိုးမှုတ်
ခြင်း အသံ မြည်သော နေ့ရက် ကာလ ၌ ပြည့်စုံ
ခြင်း သို့ ရောက်မည်ဟု၊ ကောင်းကင်၊ မြေကြီး၊
သမုဒ္ဒရာကို၎င်၊ အရပ်ရပ်၌ရှိ ရှိသမျှတို့ကို၎င်၊
ဖန်ဆင်း၍ ကမ္ဘာ အဆက်ဆက် အသက် ရှင်
တော်မူသော သူကို တိုင်တည်၍ ကျိန်ဆို ခြင်း
ကိုပြုလေ၏။
၈ ငါကြားရသောကောင်းကင်အသံသည်တဖန်

ဘော၊ပြောသည်ကား၊မြေနှင့်ပင်လယ်ပေါ်မှာ
ရပ်နေသောကောင်းကင်တမန်၏လက်၌ဖွင့်ထား
လျက်ရှိသော စာစောင်ငယ်ကို သွား၍ ယူလော့
၉ ဟုဆိုလျှင်၊- ငါသည် ကောင်းကင် တမန်ထံသို့
သွား၍၊ စာစောင် ငယ်ကိုပေးပါဟု တောင်း၏။
သူက ထည်း၊ ယူ၍စား လော့။ ဝမ်း ကို ခါးစေ
လိမ့်မည်။ သို့သော်လည်း၊ ပစပ်၌ ပျားရည် ကဲ့
သို့ချိုလိမ့်မည်ဟု ဆိုလျှင်၊ ငါသည်စာစောင်ကို
ကောင်းကင်တမန်၏လက်မှယူ၍စား၏။ ပစပ်၌
ပျားရည် ကဲ့သို့ ချို၏။ စားပြီးမှ ဝမ်း၌ ခါး၏။-
၁၀ ကောင်းကင် တမန်ကလည်း၊ သင်သည် အသီး
အသီး၊ ဘာသာစကားကိုပြောသောလူအမျိုးမျိုး
တို့၌၎င်း၊ရှင်ဘုရင်တို့၌၎င်း၊တဖန်ပရောဖက်ပြု၍
ဟောပြောရမည်ဟုဆိုလေ၏။

၁၁

၁ တဖန်၊ လှံတံနှင့် တူသော ကျူပင် တလုံးကို
ငါ့အားပေး၍ငါ့ကိုပြောဆိုသည်ကား၊ ထလော့၊
ဘုရားသခင်၏ ဗိမာန်တော်နှင့် ယဇ်ပလ္လင်ကို
တိုင်းလော့၊ ဗိမာန် တော်၌ ကိုးကွယ်သောသူ
၂ တို့ကိုလည်းရေတွက်လော့။- ဗိမာန်တော်တန်
တိုင်းကိုမတိုင်းနှင့်၊ ပယ်ထားလော့။ တပါးအ
မျိုးသားတို့၌ အပ်ပေးပြီ။ သူတို့သည် သန့်ရှင်း
သောမြို့တော်ကို၊ လ လေးဆယ် နှစ်လပတ်လုံး
၃ နင်းကြလိမ့်မည်။-ငါ၏သက်သေခံနှစ်ပါးကိုငါ
အခွင့် ပေးမည်။ သူတို့ သည် လျှော် တေအဝတ်
ကိုဝတ်လျက်၊ အရက်တထောင် နှစ်ရာခြောက်
၄ ဆယ်ပတ်လုံးပရောဖက်ပြုကြလိမ့်မည်။-ထိုသူ
တို့သည်ကား၊ မြေကြီးအရှင်၏ ရှေ့တော်၌ ရပ်
ထားသော သံလွင်ပင် နှစ်ပင်နှင့်မီးခွက် နှစ်လုံး
၅ ဖြစ်သတည်း။- တစုံတယောက်သော သူသည်
သူတို့ကိုညှဉ်းဆဲခြင်းငှါအလိုရှိလျှင်၊ သူတို့၏
ခံတွင်းထဲကမီးထွက်၍ ရန်သူတို့ကိုမျိုတတ်၏။
တစုံတယောက်သောသူသည်ထိုသူတို့ကိုညှဉ်း
ဆဲခြင်းငှါအလိုရှိလျှင်၊ ထိုသို့ အသေသတ်ခြင်း
၆ ကိုခံရမည်။- ထိုသူတို့သည် ပရောဖက် ပြုသော
နေ့ရက်ကာလ၌ မိုဃ်းမရွာစေခြင်းငှါ၊ မိုဃ်း
ကောင်းကင်ကိုပိတ်ရသောအခွင့်၊မြစ်ရေ၊ တွင်း
ရေကိုအသွေးဖြစ်စေရသောအခွင့်၊ မိမိတို့အလို
ရှိသမျှသောအခါ၌ ဘေးအမျိုးမျိုးဖြင့်မြေကြီး
ကိုဒဏ်ခတ်ရသောအခွင့်ကိုရကြ၏။
၇ သူတို့သည်သက်သေခံပြီးသောအခါ၊အနက်
ဆုံးသောတွင်းထဲကတက်သောသားရဲသည်သူ
တို့ကို စစ်တိုက်၍အောင်လိမ့်မည်။ အသက်ကို
၈ သတ်ပြီးမှ၊-သူတို့သခင်သည်လက်ဝါးကပ်တိုင်
မှာ အသေခံတော်မူသော အရပ်တည်းဟူသော
သောဒုံဟူ၍၎င်း၊ အဲဂုတ္တုဟူ၍၎င်း အတွင်းအ
နက် အားဖြင့်ခေါ်ဝေါ်သော မြို့ကြီး၏လမ်း၌ အ
၉ လောင်းကောင်တို့သည်နေရစ်ကြလိမ့်မည်။- အ
သီးအသီးဘာသာစကားကိုပြောသောလူအမျိုး
အနွယ်တို့သည် သုံးရက်ခွဲပတ်လုံး အလောင်း
ကောင်တို့ကိုမြင်ရ၍၊သင်္ချိုင်းခြင်းကိုမပြုစေဘဲ
၁၀ ကြလိမ့်မည်။- မြေကြီး ပေါ်မှာ နေသော သူတို့
သည်ထိုအလောင်းကောင်တို့ကိုမြင်သောအခါ၊
ဝမ်းမြောက်၍ ပျော်မွေ့ခြင်းကိုပြုကြလိမ့်မည်။
တ ယောက် ကို တ ယောက် ထက် ဆောင် ပေး
လိုက်ကြလိမ့်မည်။ အကြောင်းမူကား၊အထက်
ကထိုပရောဖက်နှစ်ပါးတို့သည် မြေကြီးပေါ်မှာ
နေသောသူတို့ကို ပြင်းစွာ နှောင့်ရှက် ညှဉ်းဆဲ
၁၁ ကြသည်ဟု ဘောပြောဆိုလေ၏။- ထိုနောက်
သုံးရက်ခွဲလွန်ပြီးလျှင်၊ ဘုရားသခင်အထံတော်
ကအသက်ဝိညာဉ်သည်သူတို့၌ဝင်သဖြင့်၊ သူတို့
သည်မတ်တတ်ထ၍ မြင်သမျှသော သူတို့သည်
၁၂ အလွန်ကြောက်လန့်ကြ၏။- ကောင်းကင်ကထွက်
သောအသံကြီးက၊ဤအရပ်သို့တက်ကြလော့
ဟု၊မိမိတို့အားပြောဆိုသည်ကိုသူတို့သည် ကြား
လျှင်၊မိုဃ်းတိမ်ဖြင့်ကောင်းကင်သို့တက်၍ရန်
၁၃ သူတို့သည်မြင်ကြ၏။- ထိုအချိန် နာရီ၌ ကြီးစွာ
သော မြေလှုပ်ခြင်း ဖြစ်၍၊ မြို့၏ ဆယ်စုတစု ပြို
လေ၏။ ထိုမြေလှုပ်ခြင်း၌လူခုနစ်ထောင်သေကြ
၏။ကြွင်းသောသူတို့သည်ကြောက်လန့်၍ကောင်း
ကင်ဘုံ၏အရှင်ဘုရားသခင်ကို ချီးမွမ်းကြ၏။-
၁၄ ဒုတိယ အမင်္ဂလာ လွန်ပြီ။ တတိယ အမင်္ဂလာ
သည်အလျင်အမြန်လာလိမ့်မည်။
၁၅ သတ္တမ ကောင်းကင် တမန် သည် တံပိုး မှုတ်
သောအခါ၊ ကောင်းကင်ဘုံ၌ကြီးသောအသံတို့
ကား၊ လောကီနိုင်ငံသည်ငါတို့အရှင်၏နိုင်ငံဖြစ်
လေပြီ။ ထိုအရှင်၏ ခရစ်တော် နိုင်ငံဖြစ်လေပြီ။
သူသည်လည်း ကမ္ဘာအဆက်ဆက် စိုးစံတော်မူ
၁၆ မည်ဟုပြောဆိုကြ၏။- ဘုရားသခင် ရှေ့တော်၌
မိမိတို့ ပလ္လင်ပေါ်မှာ ထိုင်သော အသက်ကြီးသူ
နှစ် ဆယ် လေး ပါး တို့ သည် ပြပ် ဝပ်၍ ဘုရား
၁၇ သခင်ကို ကိုး ကွယ် လျက်၊- အနန္တတန်ခိုးနှင့်
ပြည့်စုံ၍၊ ပစ္စုပ္ပန်၊ အတိတ်၊ အနာဂတ် ကာ
လအစည်ရှိတော်မူသော ထာဝရ အရှင်ဘုရား

သခင်၊ ကိုယ်တော်၏ မဟာတန်ခိုးတော်ကို ယူ
ဆောင်၍စိုးစံတော်မူသောကျေးဇူးတော်ကို အ
၁၈ ကျွန်ုပ်တို့သည်ချီးမွမ်းပါ၏။-လူမျိုးတို့သည်အ
မျက်ထွက်ကြသည်ဖြစ်၍၊ အမျက်တော်သည်
လည်းရောက်ပါပြီ။ သေလွန်သောသူတို့ကို
တရားစီရင်ဆုံးဖြတ်တော်မူ၍၊ ကိုယ်တော်၏
ကျွန်တည်းဟူသောပရောဖက်တို့အားဒင်၊သန့်
ရှင်းသူတို့အားဒင်၊ ကိုယ်တော်ကိုကြောက်ရွံ့ရို
သေသောသူအကြီးအငယ်တို့အားဒင်၊ဆုကျေး
ဇူးကိုပေးသနားတော်မူ၍၊ မြေကြီးကိုဖျက်
ဆီးသောသူတို့ကိုဖျက်ဆီးတော်မူသောအ
၁၉ ချိန်ရောက်ပါပြီဟု လျှောက်ဆိုကြ၏။- တဖန်၊
ကောင်းကင်ဘုံ၌ဘုရားသခင်၏ဗိမာန်တော်ကို
ဖွင့်ထား၍၊ ဗိမာန်တော်ထဲမှာ ပဋိညာဉ်သေစ်
တာတော်ထင်ရှားလေ၏။ လျှပ်စစ်ပြက်ခြင်း၊အ
သံမြည်ခြင်း၊ မိုးကြိုးခြိမ်းခြင်း၊ မြေလှုပ်ခြင်း၊အ
လုံးကြီးစွာသောမိုးသီးကျခြင်းဖြစ်ကြ၏။

၁၂

၁ ကောင်းကင်၌ ကြီးစွာသော နိမိတ်လက္ခဏာ
ဟူမူကား၊ မိန်းမတဦးသည်နေကိုဝတ်လျက်၊ လ
ကိုခြေဖြင့်နင်းလျက်၊ မိမိခေါင်းပေါ်၌ ကြယ်
ဆယ်နှစ်လုံးဖြင့်ပြီးသောသရဖူကိုဆောင်းလျက်
၂ ပေါ်လာ၏။-ထိုမိန်းမသည်ကိုယ်ဝန်ဆောင်၍ဖွား
အံ့သောဝေဒနာပြင်းသောကြောင့် အော်ဟစ်
၃ လေ၏။-ကောင်းကင်၌အခြားသောနိမိတ်လက္ခ
ဏာပေါ်လာသည်ကား၊ အဆင်းနီသောနဂါး
ကြီးသည် ခေါင်းခုနစ်လုံး၊ ဦးချိုဆယ်ချောင်းနှင့်
တကွခေါင်းပေါ်၌ သရဖူခုနစ်ခုကို ဆောင်း
၄ လျက်ရှိ၏။- သူ၏အမြီးသည်ကောင်းကင်ကြယ်
သုံးစုတစုကိုဆွဲငင်၍ မြေကြီးသို့ချလိုက်လေ၏။
သားကိုဖွားလုသောမိန်းမသည် ဖွားသောအခါ၊
နဂါးသည် ထိုသားကို ကိုက်စားမည်အကြံ
၅ နှင့် မိန်းမရှေ့၌ရပ်နေ၏။- ထိုမိန်းမသည် လူမျိုးတ
ကာတို့ကို သံလှံတံနှင့် အုပ်စိုးလတံ့သော သား
ယောက်ျားကိုဖွားမြင်၏။ထိုသားကိုဘုရားသခင်
၆ ထံသို့ဒင်၊ပလ္လင်တော်သို့ဒင်ချီယူတော်မူ၏။-မိန်းမ
သည် အရက်တထောင်နှစ်ရာခြောက်ဆယ်
ပတ်လုံး၊ တော၌ကျွေးမွေးခြင်းကို ခံရမည်အ
ကြောင်း၊ ဘုရားသခင်ပြင်ဆင်တော်မူသောအ
ရပ်သို့ပြေးလေ၏။
၇ ကောင်းကင်၌စစ်ဖြစ်၏။ မိက္ခေလနှင့်သူ၏
ကောင်းကင်တမန်တို့သည်နဂါးကိုစစ်တိုက်ကြ
၏။နဂါးနှင့်သူ၏တမန်တို့သည်စစ်တိုက်၍ မနိုင်
၈ ကြ။ကောင်းကင်၌လည်းသူတို့နေစရာမရှိ။- ထို
၉ အခါ၊ ဤလောကတနိုင်ငံလုံးကို လှည့်ဖြား၍၊
မာရ်နတ်စာတန်အမည်ရှိသောရှေးမြွေဟောင်း
တည်းဟူသောနဂါးကြီးကိုဒင်၊ သူနှင့်အတူ
သူ၏တမန်တို့ကိုဒင် မြေကြီးသို့ချလိုက်ကြ၏။-
၁၀ ကောင်းကင်ဘုံ၌ကြီးသောအသံကား၊ ယခုမှာ
ကယ်တင်ခြင်းဖြစ်၏။ တန်ခိုးတော်လည်းဖြစ်
၏။ ငါတို့ဘုရားသခင်၏နိုင်ငံတော်နှင့်သူ၏ခရစ်
တော်၏အာဏာတော်စက်လည်းဖြစ်၏။ အ
ကြောင်းမူကား၊ ငါတို့ညီအစ်ကိုများကို ငါတို့
ဘုရားသခင်ရှေ့တော်၌ နေ့ညဉ့်မပြတ်အပြစ်
၁၁ တင်သောရန်သူကို အောက်သို့ချလေပြီ။- သူတို့
သည် သိုးသငယ်၏အသွေးအားဖြင့်ဒင်၊ မိမိတို့
သက်သေခံချက် နှုတ်ကပတ်တရားအားဖြင့်ဒင်
အောင်မြင်၍၊ အသေခံသည်တိုင်အောင် ကိုယ်
၁၂ အသက်ကိုမနှစ်မြောကြ။- ထိုကြောင့်၊ကောင်း
ကင်နှင့်ကောင်းကင်သားတို့၊ရွှင်လန်းကြလော့။
မြေကြီးနှင့် ပင်လယ်သည် အမင်္ဂလာရှိ၏။ အ
ကြောင်းမူကား၊ မာရ်နတ်သည်မိမိကာလတခ
ဏသာရှိသည်ကိုသိ၍၊ ပြင်းစွာသောဒေါသအ
မျက်နှင့်တကွ သင်တို့ရှိရာသို့ဆင်းလေပြီဟု ဆို
ကြသည်ကိုငါကြား၏။
၁၃ ထိုနဂါးသည်မြေကြီးသို့ကိုယ်ကျသည်ကိုသိ
မြင်လေသော်၊သားယောက်ျားကိုဖွားမြင်သော
၁၄ မိန်းမကိုညှဉ်းဆဲ၏။-မိန်းမသည်ထိုမြွေနှင့်လွတ်၍၊
တကာလ၊ နှစ်ကာလ၊ ကာလတဝက်ပတ်လုံး
ကျွေးမွေးခြင်းကို ခံရာအရပ်တည်းဟူသော
တောအရပ်သို့ ပျံနိုင်မည်အကြောင်း၊ ရွှေလင်း
၁၅ တကြီး၏အတောင်နှစ်ဖက်ကိုရလေ၏။- ထိုအ
ခါ၊ မိန်းမကို ရေအယုန်ဖြင့် မျှောသွားစေခြင်းငှါ၊
နဂါးသည်မိမိခံတွင်းထဲကမြစ်ရေစီးသကဲ့သို့ရေ
၁၆ ကိုမိန်းမနောက်၌ထုတ်ပြစ်လေ၏။- မြေကြီးသည်
မိန်းမကိုမစ၍ မိမိခံတွင်းကိုဖွင့်ပြီးလျှင်၊ နဂါး၏ခံ
တွင်းထဲကထုတ်ပြစ်သောမြစ်ရေကို မျိုလေ၏။-
၁၇ နဂါးသည် မိန်းမကို အမျက်ထွက်၏။ ဘုရားသခင်၏
ပညတ်တော်တို့ကိုကျင့်၍၊ ယေရှု၏သက်သေခံ
တော်မူချက်ကို စွဲလမ်းသောသူတည်းဟူသော၊
ထိုမိန်းမ၌ကြွင်းသောအမျိုးအနွယ်ကို စစ်တိုက်
ခြင်းငှါသွား၏။

၁၃

၁ ပင်လယ်နား၌ သဲပေါ်မှာငါရပ်၍၊ သားရဲတ

ကောင်သည်ခေါင်းခုနစ်လုံး၊ ဦးချိုဆယ်ချောင်းနှင့်
တကွဖြို့ပေါ်၌ သရဖူဆယ်ဆူကိုဆောင်းလျက်၊
ခေါင်းပေါ်၌ထဦးဘုရားသခင်၏အသရေတော်
ကိုရှုတ်ချသောနာမမှည့်လျက်၊ပင်လယ်ထဲကတက်
၂ သည်ကိုမြင်၏။-ထိုသို့ငါမြင်သောသားရဲသည်
ကျားသစ်နှင့်တူ၏။သူ၏ခြေသည်ဝံခြေကဲ့သို့ဖြစ်
၏။သူ၏နှုတ်သည်လည်း ခြင်္သေ့နှုတ်ကဲ့သို့ဖြစ်
၏။ နဂါးသည် မိမိတန်ခိုးနှင့် မိမိပလ္လင်ကိုငှင်၊
ကြီးစွာသောအာဏာစက်ကိုငှင် သားရဲ၌အပ်
၃ ပေး၏။-သားရဲ၏ခေါင်းတလုံးသည်သေအောင်
ကွပ်ဖျက်ပြီး သကဲ့သို့ဖြစ်၍၊ သေစေသောဒဏ်
ချက်သည် ပျောက်လျက်ရှိ၏။ မြေကြီး သားအ
ပေါင်းတို့သည်သားရဲနောက်သို့လိုက်၍အံ့ဩြ
၄ ကြ၏။- ထို သားရဲ၌ အာဏာစက်ကို အပ်ပေး
သောနဂါးကို ကိုးကွယ်ကြ၏။ သားရဲကိုလည်း
ကိုးကွယ်၍၊ အဘယ်သူသည် သားရဲ နှင့်တူသ
နည်း။ အဘယ်သူသည်သူကိုစစ်ပြိုင်နိုင်သနည်း။
၅ ဟု ပြောဆိုကြ၏။- ထိုသားရဲသည်လည်း ကြီး
စွာသော စကားကိုငှင်၊ ဘုရားသခင်ကို ပြစ်မှား
သောစကားကိုငှင်ပြောတတ်သောနှုတ်နှင့်ပြည့်
စုံ၍၊ လလေးဆယ်နှစ်လပတ်လုံး မိရင်ရသော
၆ အခွင့်ကို ရ၏။- ဘုရား သခင်ကို ပြစ်မှားသော
စကား အားဖြင့် နာမတော်နှင့် ထဲတော်ကို ငှင်၊
ကောင်းကင်သားတို့ကိုငှင် ပြစ်မှားခြင်းငှါ နှုတ်
၇ ကို ဖွင့်ထား၏။- သန့်ရှင်း သူတို့ကို စစ်တိုက်၍
နိုင်ရသော အခွင့်ကိုရ၏။ အသီးအသီး အာသာ
စကားကို ပြောသော လူအမျိုးအနွယ် ခပ်သိမ်း
၈ တို့ကိုအုပ်စိုးရသောအခွင့်ကိုလည်းရ၏။- ကွပ်
ဖျက်သောသိုးသငယ်၏အသက်စာစောင်၌ကမ္ဘာ
ဦးကပင် စာရင်း မဝင် သော မြေ ကြီး သား အ
၉ ပေါင်းတို့သည်သားရဲကို ကိုးကွယ်ကြ၏။- နား
၁၀ ရှိသောသူမည်သည်ကားကြားပါစေ။-သုံ့ပန်း
ကိုဖမ်းဆီးယူသွားသောသူသည်ကိုယ်တိုင်ဖမ်း
ဆီး ယူ သွား ခြင်းကို ခံရလိမ့် မည်။ ထား ဖြင့်
သတ်တတ်သောသူသည်လည်းကိုယ်တိုင်ထား
ဖြင့်သေရမည်။ ဤအရာ၌သန့်ရှင်းသူတို့ထည်း
သည်း ခံ စ ရာ အ ကြောင်း၊ ယုံ ကြည် စ ရာ အ
ကြောင်းရှိ၏။
၁၁ အခြားသော သားရဲ တကောင်သည်၊ သိုးသ
ငယ်၏ဦးချိုနှင့်တူသောဦးချိုနှစ်ချောင်းရှိ၍၊ နဂါးကဲ့
သို့စကားပြောလျက်၊ မြေကြီးထဲက ထွက်သည်
၁၂ ကိုငါမြင်၏။- ထိုသားရဲသည်သုအရင်ဖြစ်သော

ပဌမသားရဲ၏ အာဏာစက်ရှိသမျှကိုသုံး၍၊
သေစေသောဒဏ်ချက်ပျောက်ခဲ့ပြီးသော ပဌမ
သားရဲကို မြေကြီးမှစ၍ မြေကြီး သား တို့သည်
၁၃ ကိုးကွယ်စေခြင်းငှါပြု၏။- ကြီးစွာသောနိမိတ်
လက္ခဏာတို့ကိုလည်းပြ၏။ လူတို့ မျက်မှောက်
၌ ကောင်းကင်က မြေကြီးအပေါ်သို့ မီးကိုဆင်း
၁၄ စေ၏။- ပဌမသားရဲရှေ့၌ပြပိုင်သောနိမိတ်လက္ခ
ဏာတို့အားဖြင့်မြေကြီးသားတို့ကိုလှည့်ဖြား၏။
ထားနှင့် ခုတ်သော ဒဏ်ချက်ကိုခံရ၍ အသက်
ရှင်သေးသော သားရဲ၏ ရုပ်တုကို လုပ်စေခြင်း
၁၅ ငှါမြေကြီးသားတို့ကိုမှာထား၏။-သားရဲ၏ရုပ်
တုသည်စကားပြောနိုင်မည်အကြောင်းနှင့်၊ မိမိ
ကိုမကိုးကွယ်သောသူရှိသမျှတို့ကိုသတ်ခြင်းငှါ
ပြုနိုင်မည်အကြောင်း၊ရုပ်တု၌အသက်ကိုသွင်း
၁၆ ပေးရသော အခွင့်ကို လည်း ရ၏။- ငွေ ရတတ်
သောသူ၊ ဆင်းရဲ သောသူ၊ ကျွန် ခံ ရ သော သူ၊
လွတ်သောသူ၊ အကြီးအငယ် ရှိသမျှ တို့သည်
လက်ျာ ထက် ၌ ဖြစ် စေ၊ နဖူး၌ ဖြစ်စေ၊ တံဆိပ်
၁၇ ထက်မှတ်ကို ခံစေခြင်းငှါငှင်၊- ထိုတံဆိပ်ထက်
မှတ်တည်းဟူသောသားရဲ၏နာမဖြစ်စေ၊နာမ၏
အရေအတွက်ဖြစ်စေ၊ တခုခုကို မခံသောသူတ
ယောက်မျှ မရောင်း မဝယ် စေခြင်းငှါ ငှင် မိရင်
၁၈ ၏။-ဤအရာ၌ပညာရှိ၏။ဉာဏ်ရှိသောသူသည်
သားရဲ ၏ အရေအတွက် ကို ရေတွက်စေ။ လူ၏
အရေအတွက်ဖြစ်၏။ ခြောက်ရာ ခြောက်ဆယ်
ခြောက်ထည်းဖြစ်၏။

၁၄

၁ ထိုနောက်မှငါကြည့်လျှင်၊သိုးသငယ်သည်ဇိ
ယုန်တောင်ပေါ်မှာရပ်နေ၏။သူ၏နာမနှင့်ခမည်း
တော်၏ နာမကို နဖူး၌ အက္ခရာ တင်သောသူ တ
သိန်းလေးသောင်းလေးထောင်လည်း သူနှင့်အ
၂ တူရှိကြ၏။- သမုဒ္ဒရာရေသံ၊ကြီးစွာသောမိုဃ်း
ကြိုးသံကဲ့သို့ကောင်းကင်ကအသံကိုငါကြား၏။
ထိုသို့ ငါကြားသော အသံသည် စောင်းသမား
၃ များစောင်းတီးသောအသံကဲ့သို့ဖြစ်၏။- ပလ္လင်
တော်ရှေ့၌ငှင်၊သတ္တဝါလေးပါးနှင့်အသက်ကြီး
သူတို့ရှေ့၌ငှင်၊ သူတို့သည်ဇသစ်သော သီခြင်း
ကိုဆိုကြ၏။ မြေကြီးမှရွေးနှုတ်သောသူတသိန်း
လေးသောင်းလေးထောင်မှတပါး၊ အဘယ်သူ
၄ မျှ ထိုသီခြင်းကို သင်၍ မရနိုင်။- ထိုသူတို့သည်
ကညာဖြစ်၍ မိန်းမနှင့် မညစ်ညူးသောသူ
ဖြစ်ကြ၏။ သိုးသငယ်သွားလေရာရာ အရပ်သို့

နောက်တော်၌ လိုက်သော သူ ဖြစ်ကြ၏။ လူတို့
အထဲက ရွေး နုတ်၍ ဘုရားသခင်နှင့် သိုးသငယ်
၅ အဖို့၊ အဦးသီးသော အသီး ဖြစ်ကြ၏။— အပြစ်
နှင့်ကင်းလွတ်ကြသည်ဖြစ်၍ သူတို့နှုတ်၌ မုသာ
မရှိ။
၆ မြေကြီး ပေါ်မှာ နေသော သူတည်း ဟူသော
အသီးအသီးဘာသာစကားကို ပြောသောလူအ
မျိုး အနွယ်ခပ်သိမ်းတို့အား ထာဝရ ဧဝံဂေလိ
တရားကိုဟောရသော ကောင်းကင်တမန်တပါး
၇ က၊— ဘုရားသခင်ကို ကြောက်ရွံ့၍ ချီးမွမ်းကြ
လော့။ တရားစီရင်တော်မူသော အချိန် ရောက်
လာပြီ။ ကောင်းကင်၊ မြေကြီး၊ သမုဒ္ဒရာနှင့်စမ်း
ရေတွင်းတို့ကိုဖန်ဆင်းတော်မူသောအရှင်ကိုကိုး
ကွယ်ကြလော့ဟု၊ ကြီးသောအသံနှင့်ပြောဆို၍
ကောင်းကင် အလယ်၌ ပျံ၍လျက်ရှိသည်ကို ငါ
၈ မြင်၏။— ကောင်းကင်တမန်တပါးကလည်း၊ ဗာ
ဗုလုန်မြို့ကြီးပြိုလဲပြီ။ မိမိမတရားသောမေထုန်၏
အဆိပ် အတောက်တည်း ဟူသော စပျစ်ရည်ကို
လူမျိုးအပေါင်းတို့အား တိုက်လေပြီးသောဗာဗု
၉ လုန်မြို့ကြီး၊ ပြိုလဲပြီဟုလိုက်၍ ပြောဆို၏။— ထိုမှ
တပါး၊ တတိယကောင်းကင်တမန်က၊ အကြင်သူ
သည်သားရဲနှင့်သူ၏ ရုပ်တုကိုကိုးကွယ်၍၊ သူ
၏ တံဆိပ် လက်မှတ်ကို နဖူး၌ ခံသည် ဖြစ်စေ၊
၁၀ လက်၌ခံသည်ဖြစ်စေ၊— ထိုသူသည်ဘုရားသခင်
၏ ဒေါသဖလား၌ လောင်းသော အမျက် တော်
စပျစ်ရည်စစ်ကို သောက်ရလိမ့်မည်။ သန့်ရှင်း
သော ကောင်းကင် တမန်တို့ရှေ့၊ သိုးသငယ်ရှေ့
တွင်၊ ကန့်နှင့် ရောသောမီးထဲမှာ ပြင်းစွာသော
၁၁ ညှဉ်းဆဲခြင်းကို ခံရလိမ့်မည်။— ထို ညှဉ်းဆဲ
ခြင်း၏ မီးခိုး သည် ကမ္ဘာ အဆက်ဆက် တက်
လျက်ရှိ၏။ သားရဲ နှင့်သူ၏ရုပ်တုကိုကိုးကွယ်၍၊
သူ၏ နာမ တံ ဆိပ် လက် မှတ် ကို ခံ သော သူ တို့
သည်နေ့ညဉ့်မပြတ်သက်သာမရကြဟု၊ လိုက်
၁၂ ၍ကြီးသောအသံနှင့်ပြောဆို၏။—ဘုရားသခင်၏
ပညတ်တို့ကိုရင်၊ ယေရှု၏ ယုံကြည်ခြင်းကို ရင်
စောင့်ရှောက်သောသန့်ရှင်းသူတို့သည် ဤအရာ
၁၃ ၌ သည်း ခံစရာ အကြောင်း ရှိ၏။— တ ဖန် တုံ၊
ကောင်းကင်အသံကား၊ ယခုမှစ၍ သခင်ဘုရား
၌ သေသောသူတို့သည် မင်္ဂလာရှိကြ၏ဟု၊ ရေး
ထားလော့ဟုပြောဆိုသည်ကိုငါကြား၏။ ဝိညာဉ်
တော်ကလည်း၊ ထိုသို့မှန်ပေ၏၊ ထို သူတို့သည်
ပင်ပန်းခြင်း၊ ငြိမ်းမည် အကြောင်းရှိ၍၊ သူတို့၏
အကျင့်ထိုသည်ထည်းသူတို့နှင့် အတူ လိုက်ကြ
၏ဟုမိန့်တော်မူ၏။
၁၄ တဖန်ငါကြည့်လျှင်၊ ဖြူသောမိုဃ်းတိမ်ရှိ၏။
လူသားတော်နှင့်တူသောသူသည် ခေါင်းတော်
ပေါ်၌ရွှေသရဖူကိုဆောင်းလျက်၊ ထက်သောတံ
စဉ်ကိုကိုင်လျက်၊ မိုဃ်းတိမ်ပေါ်မှာထိုင်တော်
၁၅ မူ၏။— ကောင်းကင် တမန် တပါးသည် ဗိမာန်
တော် ထဲက ထွက်၍၊ ကိုယ်တော်၏ တံစဉ် ကို
လွှတ်၍ စပါးကိုရိတ်တော်မူပါ။ ရိတ်ရသောအ
ချိန်ရောက်ပါပြီ။ မြေကြီး၌ ရိတ်စရာ စပါးမှည့်
ပါပြီဟု၊ မိုဃ်းတိမ်ပေါ်မှာထိုင်သောသူကိုကြီး
၁၆ သောအသံ နှင့် တစ်ထေ၏။— မိုဃ်းတိမ်ပေါ်မှာ
ထိုင်သောသူသည်မိမိတံစဉ်ကိုမြေကြီး၌ သွင်း
၁၇ ၍ မြေကြီး၏ စပါးကို ရိတ်တော်မူ၏။— ကောင်း
ကင်တမန်တပါးသည်ကောင်းကင်ဘုံ၌ ရှိသော
ဗိမာန် တော်ထဲက ထွက်၍ သူ၌ ထည်း ထက်
၁၈ သောတံစဉ်ပါ၏။— မီးကိုအစိုးရသောကောင်း
ကင်တမန်တပါးသည် ယဇ်ပလ္လင်ထဲက ထွက်
၍ထက်သောတံစဉ်ပါသောသူကိုကြီးစွာသော
ကျွေး ကြော် ခြင်း နှင့် ခေါ်လျက်၊ သင်၏ ထက်
သောတံစဉ်ကိုလွှတ်၍မြေကြီး၏စပျစ်သီးခြွတ်
ထို့ကိုရိတ်လော့။ အသီးမှည့်ပြီဟု ပြောဆို၏။—
၁၉ ကောင်းကင်တမန်သည်လည်းမိမိတံစဉ်ကိုမြေ
ကြီး၌ သွင်း၍ မြေကြီး၏စပျစ်သီးကို ရိတ်ပြီးမှ၊
ဘုရား သခင်၏ အမျက် တော် တည်း ဟူ သော
၂၀ နယ်ရာတန်ဆာကြီးထဲသို့ချလေ၏။—မြို့ပြင်၌နယ်
ရာ တန်ဆာကို မိနင်း၍ အသွေးသည် ထဆတ်
ခြောက်ယူဇနာ ခရီးတာရှောက်လုံး၌ မြင်း ဇက်
ကြိုးကို မှီသည် ထိုင်အောင် နယ်ရာ တန်ဆာထဲ
က ထွက်လေ၏။

၁၅

၁ တဖန်တုံ၊ ဘုရားသခင်၏အမျက်တော်ကို ပြီး
စီး စေသော နောက် ဆုံး ဘေး ဒဏ် ခုနစ် ပါး ရှိ
သော၊ ကောင်း ကင် တ မန် ခုနစ်ပါး တည်း ဟူ
သော၊ကောင်းကင်၌ထူးဆန်းသောနိမိတ်ကြီးအ
၂ ခြားတပါးကိုငါမြင်ရ၏။— မီးနှင့်ရောသော ဖန်
ရေကန်ကဲ့သို့ ရှိသည်ကိုလည်းမြင်ရ၏။ သားရဲ
နှင့်ရင်၊ သူ၏ ရုပ်တု နှင့်ရင်၊ သူ၏ နာမ အရေအ
တွက် နှင့် ရင် လွတ် ၍ အောင် မြင် သော သူ တို့
သည်၊ ဘုရားသခင်၏ စောင်း တော် တို့ကို ကိုင်
လျက်၊ ဖန်ရေကန်နားမှာရပ်နေကြသည်ကိုမြင်
၃ ရ၏။—ထိုသူတို့သည်ဘုရားသခင်၏ ကျွန်မောရှေ

၏ သီခြင်းနှင့် သိုးသငယ်၏ သီခြင်းကို သီ၍၊ အ
နန္တ တန်ခိုးနှင့် ပြည့်စုံတော်မူသော ထာဝရအ
ရှင်ဘုရားသခင်၊ ကိုယ်တော်၏အပြုအမူတို့သည်
ကောင်းမြတ်၍၊ အံ့သြဖွယ်ဖြစ်ကြပါ၏။ လူ
မျိုးတို့၏ဘုရင်၊ ကိုယ်တော်၏ အကျင့် ဓလေ့တို့
၄ သည်ဖြောင့်မတ်ဟုတ်မှန်ကြပါ၏။– အိုထာဝရ
ဘုရား၊ကိုယ်တော်ကိုမကြောက်ရွံ့ဘဲ၊နာမတော်
ကိုမရိုးမွမ်းဘဲအဘယ်သူနေရပါအံ့နည်း၊ကိုယ်
တော်တပါးတည်းသာလျှင်သန့်ရှင်းတော်မူ၏။
တရားသဖြင့် စီရင်တော်မူခြင်း အရာ တို့သည်
ထင်ရှားသည် ဖြစ်၍၊ လူမျိုး အပေါင်းတို့သည်
လာ၍ ရှေ့တော်၌ ကိုးကွယ် ကြပါ လိမ့်မည်ဟု
လျှောက် ဆိုကြ၏။
၅ ထို နောက် ငါ ကြည့်လျှင်၊ ကောင်း ကင် ဘုံ၌
သက်သေခံ တော်မူချက် ဓာပနာရာ ထဲတော် ရှိ
၆ သောဗိမာန်တော်ကိုဖွင့်ထားပြီး– ဘေးဒဏ်
ခုနစ်ပါးရှိသော ကောင်းကင်တမန် ခုနစ်ပါး တို့
သည် စင်ကြယ် ပြောင်လက်သော ပိုက်ဆန်အ
ဝတ်ကို ဝတ်လျက်၊ ရင်၌ရွှေရင်စည်းကို စည်း
လျက်၊ ဗိမာန် တော်ထဲက ထွက် လာ ကြ ၏။–
၇ သတ္တဝါလေးပါးတွင်တပါးသည်ကမ္ဘာအဆက်
ဆက်အသက်ရှင်တော်မူသောဘုရားသခင်၏အ
မျက်တော်နှင့် ပြည့်သောရွှေဖလား ခုနစ်လုံးကို
ကောင်းကင် တမန် ခုနစ် ပါး တို့ အား ပေး ၏။–
၈ ဘုရား သခင်၏ ဘုန်း တန်ခိုး အာနုဘော် တော်
ကြောင့်၊ ဗိမာန် တော်သည် မီးခိုးနှင့် ပြည့်၍
ကောင်း ကင်တမန် ခုနစ်ပါး၏ ဘေးဒဏ် ခုနစ်
ပါး မကုန်မှီတိုင်အောင် ဗိမာန်တော်ထဲသို့ အ
ဘယ်သူမျှမဝင်နိုင်။

၁၆

၁ ဗိမာန် တော် ထဲက ကြီး သော အ သံ ကား၊
သွား ကြ လော့၊ ဘုရား သခင် ၏ အမျက် တော်
ဖလားခုနစ်လုံးကို မြေကြီးပေါ်သို့သွန်းလောင်း
ကြလော့ဟု၊ကောင်းကင်တမန်ခုနစ်ပါးတို့အား
၂ ပြောဆိုသည်ကိုငါကြား၏။–ပဌမသူသည်သွား
၍ မိမိဖလားကို မြေကြီးပေါ်သို့ သွန်း လောင်း
လျှင်၊သားရဲ၏တံဆိပ်ထက်မှတ်ကိုခံ၍သူ၏ရုပ်
တုကို ကိုးကွယ်သောလူတို့၌၊ အလွန် ဆိုးသော
၃ အနာမိမ်းပေါက်လေ၏။– ဒုတိယ ကောင်းကင်
တမန်သည် မိမိဖလားကိုပင်လယ်ပေါ်သို့ သွန်း
လောင်းလျှင်၊ ပင်လယ်သည်လူသေ၏ အသွေး
ကဲ့သို့ သောအသွေးဖြစ်၏၊ ပင်လယ်၌ အသက်
ရှင်သောသတ္တဝါအပေါင်းတို့သည် သေကြ၏။
၄ တတိယ ကောင်းကင် တမန်သည် မိမိဖလားကို
မြစ်ပေါ်သို့၎င်း၊ စမ်း ရေတွင်း ပေါ်သို့ ၎င်း သွန်း
လောင်းလျှင်၊ ထိုအရာတို့သည် အသွေးဖြစ်ကြ
၅ ၏။– ကောင်းကင်တမန်ကလည်း၊ ပစ္စုပ္ပန်၊ အ
တိတ်၊ အနာဂတ် ကာလအစည် ရှိတော်မူသော
အရှင်၊ ကိုယ်တော်သည်ဤသို့ တရားစီရင်တော်
၆ မူသည်အမှုမှာဖြောင့်မတ်တော်မူ၏။– ထိုသူတို့
သည် သန့်ရှင်းသူတို့၏အသွေး၊ ပရောဖက်တို့၏
အသွေးကို သွန်းလောင်းကြသည်ဖြစ်၍၊ သူတို့
အားအသွေးကိုတိုက်တော်မူပြီ။ သူတို့လည်းခံ
ထိုက်ကြ ပါ၏ဟု လျှောက် ဆိုသည်ကို ငါကြား
၇ ၏။– ယဇ်ပလ္လင်ကလည်း၊ မှန်ပါ၏၊ အနန္တတန်
ခိုးနှင့်ပြည့်စုံတော်မူသော ထာဝရအရှင်ဘုရား
သခင်၊ ကိုယ် တော် စီရင်တော် မူခြင်း အရာတို့
သည် ဟုတ်မှန်ဖြောင့်မတ်ကြပါ၏ဟု လျှောက်
ဆိုသောအသံကိုငါကြား၏။
၈ စတုတ္ထကောင်းကင်တမန်သည် မိမိဖလားကို
နေပေါ်သို့သွန်းလောင်းလျှင်၊ နေသည်လူတို့ကို
၉ မီးလောင် ရသော အခွင့်ကို ရ၏။– ပူအား ကြီး
သောအရှိန်ဖြင့်လူတို့သည်လောင်ခြင်းကိုခံရ၍၊
ထိုဘေးဒဏ်တို့ကိုအစိုးပိုင်တော်မူသောဘုရား
သခင်၏နာမတော်ကိုကျိန်ဆဲကြ၏၊ ဘုရားသခင်
၁၀ ကိုရိုးမွမ်းခြင်းအလို့ငှါနောင်တမရကြ။–ပဥ္စမ
ကောင်းကင်တမန်သည် မိမိဖလားကိုသားရဲ၏
ပလ္လင်ပေါ်သို့သွန်းလောင်းလျှင်၊ သူ၏နိုင်ငံသည်
မှောင်မိုက်အတိ ဖြစ်လေ၏။ နိုင်ငံသားတို့သည်
ပင်ပန်းအားကြီးသည်နှင့်မိမိတို့လျှာကို ကိုက်ဆဲ
၁၁ ကြ၏။– မိမိတို့ ခံရသော ဝေဒနာနှင့် အနာ မိမ်း
များကြောင့်ကောင်းကင်ဘုံ၏အရှင်ဘုရားသခင်
ကိုကျိန်ဆဲကြ၏၊ မိမိတို့အကျင့်ကိုလည်း နောင်
တမရကြ။
၁၂ ဆဋ္ဌမ ကောင်းကင် တမန်သည် မိမိဖလားကို
ဥဖရတ်မြစ်ကြီး ပေါ်သို့ သွန်းလောင်းလျှင်၊ အ
ရှေ့မျက်နှာဘုရင်တို့သွားရာလမ်းကိုပြင်ဆင်စေ
ခြင်းအလို့ငှါ ထိုမြစ်ရေခန်းခြောက် လေ
၁၃ ၏။– ထိုအခါ၊ နဂါး၏ခံတွင်းထဲကငှင်၊ သားရဲ၏
ခံတွင်းထဲကငှင်၊ မိစ္ဆာပရောဖက်၏ခံတွင်းထဲက
၎င်း၊ ဖားကောင်ကဲ့သို့ ညစ်ညူးသောဝိညာဉ်သုံး
၁၄ ပါးထွက်သည်ကိုငါမြင်၏။–နိမိတ်လက္ခဏာတို့
ကို ပြသောနတ်ဆိုး၏ဝိညာဉ်ဖြစ်သတည်း။ ထို
ဝိညာဉ်တို့သည်လောကီတနိုင်ငံလုံးတွင်ရှိသော

ရှင်ဘုရင်တို့ထံသို့ ထွက်သွား၍၊ ထိုနေ့တွင် တန်ခိုး
နှင့်ပြည့်စုံတော်မူသောဘုရားသခင်၏ နေ့ကြီး၌
၁၅ စစ်တိုက်ခြင်း အလို့ငှါ စုဝေးစေကြ၏။- ဟေဗြဲ
ဘာသာ အားဖြင့် အာမဂေဒုန် အမည်ရှိသော
၁၆ အရပ်၌စုဝေးစေကြ၏။-အသံတော်ကား၊သူခိုး
ကဲ့သို့ငါလာ၏။ အဝတ်အချည်းစည်းနှင့် သွား
လာ၍၊ သူတပါးရှေ့၌ ရှက်စရာအကြောင်း မရှိ
စေခြင်းငှါနိုးလျက်နေ၍၊ ကိုယ်အဝတ်ကိုစောင့်
သောသူသည်မင်္ဂလာရှိ၏။
၁၇ သတ္တမကောင်းကင်တမန်သည် မိမိဖလားကို
အာကာသ ကောင်းကင် ပေါ်သို့ သွန်း လောင်း
လျှင်၊ပြီးပြီဟုကြီးသောအသံသည် ကောင်းကင်
ဗိမာန်တော်၌ ရှိသောပလ္လင်တော်ထဲက ထွက်
၁၈ ၏။- လျှပ်စစ်ပြက်ခြင်း၊ အသံပြည်ခြင်း၊ မိုဃ်း
ခြိမ်းခြင်း၊ ကြီးစွာသောမြေလှုပ်ခြင်း ဖြစ်ကြ၏။
မြေကြီး အပေါ်မှာ လူတို့ ဖြစ်သည် ကာလမှစ၍
ထိုသို့သောလက္ခဏာနှင့်ထိုမျှလောက်ပြင်းထန်
စွာသောမြေလှုပ်ခြင်းသည်မဖြစ်စဖူး။
၁၉ မြို့ကြီးသည်သုံးဖြာကွဲပြား၍ လူအမျိုးမျိုးနေ
သောမြို့တို့သည် ပြိုလဲကြ၏။ ဘုရားသခင်သည်
ပြင်းစွာသော ဒေါသ အမျက်တော်၏ စပျစ်ရည်
ဖလား ကို တိုက် ခြင်း ငှါ ဗာဗုလုန် မြို့ကြီး ကို
အောင်းမေ့တော်မူ၏။ကျွန်းရှိသမျှတို့သည်လွင့်
ပြေးကြ၏။ တောင်များ တို့သည် ကွယ်ပျောက်
၂၀ ကြ၏။-အချိန်အခွက်တဆယ်ရှိသောမိုဃ်းသီး
သည်ကောင်းကင်ကလူတို့အပေါ်သို့ကျလေ၏။-
၂၁ ထို မိုဃ်းသီး ဘေးဒါဏ် အလွန်ကြီးသည် ဖြစ်
၍၊ လူတို့ သည် မိုဃ်း သီး ဘေး ဒါဏ် ကြောင့်
ဘုရားသခင်ကိုကျိန်ဆဲကြ၏။

၁၇

၁ ဖလား ခုနစ်လုံး ရှိသော ကောင်း ကင် တမန်
ခုနစ်ပါးတို့တွင်တပါးသည် လာပြီးလျှင်၊ ငါ့ကို
နှုတ်ဆက်၍၊ လာခဲ့ပါ၊ရေအပေါ်မှာ ထိုင်သော
ပြည်တန်ဆာကြီး၌စီရင်ခြင်းအမှုကိုငါပြမည်။-
၂ လောကီရှင်ဘုရင်တို့သည် မတရားသောမေထုန်
ကိုသူနှင့် ပြုကြပြီ။ မြေကြီးသား တို့သည် သူ၏
မတရားသောမေထုန်၏ စပျစ်ရည်နှင့် ယစ်မူးကြ
၃ ပြီဟုပြောဆိုလျက်၊- ငါ့ကိုဝိညာဉ်တော်အားဖြင့်
တောသို့ဆောင်သွားလေ၏။ ခေါင်းခုနစ်လုံးနှင့်
ဦး ဆယ်ချောင်း ရှိ၍၊ ဘုရားသခင် ၏ အသရေ
တော်ကိုရှုတ်ချသောနာမတို့နှင့်ပြည့်ရှိသော၊
ထားရဲနီအပေါ်မှာထိုင်လျက်ရှိသောမိန်းမတဦးကို
၄ ငါမြင်၏။- ထိုမိန်းမသည်အဝတ်နီ၊အဝတ်မောင်း
ကိုဝတ်လျက်၊ ရွှေတန်ဆာ၊ ကျောက်မြတ် တန်
ဆာ၊ပုလဲတန်ဆာကို ဆင်လျက်ရှိ၏။စက်ဆုပ် ရွံ
ရှာ ဖွယ်သောအရာနှင့်၎င်း၊မိမိမတရားသောမေ
ထုန်၏ညစ်ညူးခြင်းနှင့်၎င်း၊ ပြည့်သောရွှေဖလား
၅ ကိုကိုင်လျက်ရှိ၏။- နဖူး၌အက္ခရာတင်သော ထွေ
ပြား ကား၊ နက်နဲ သော အရာ၊ ဗာဗုလုန် မြို့ကြီး၊
ပြည်တန်ဆာတို့၏အမိ၊ မြေ၌စက်ဆုပ် ရွံရှာဖွယ်
၆ သောအရာတို့၏အမိပေတည်း။- ထိုမိန်းမသည်သန့်
ရှင်းသူတို့၏ အသွေး၊ ယေရှု၏ သက်သေခံ တို့၏
အသွေးနှင့် ယစ်မူးသည်ကိုငါမြင်၏။ ထိုသို့မြင်
သောအခါအလွန်အံ့ဩခြင်းမိန်းမော၍နေ၏။
၇ ကောင်းကင်တမန်ကလည်း၊အဘယ်ကြောင့်
အံ့ဩသနည်း။ ထိုမိန်းမ၏ နက်နဲသောအရာကို
၎င်း၊ ခေါင်းခုနစ်လုံးနှင့်ဦးဆယ်ချောင်းရှိ၍၊ ထို
မိန်းမကိုဆောင်သော သားရဲ၏ နက်နဲသော အရာ
၈ ကို၎င်းငါပြောမည်။-သင်မြင်သောသားရဲသည်
ဖြစ်ဘူးပြီ၊ဖြစ်ဆဲမရှိ၊ အနက်ဆုံးသောတွင်းထဲ
က တက်၍ ပျက်စီး ခြင်းသို့ ရောက် လိမ့် မည်။
ကမ္ဘာဦးကပင် အသက် စာစောင်၌ စာရင်းမဝင်
သောမြေကြီးသားတို့သည်၊ဖြစ်ဘူး၍၊ဖြစ်ဆဲမ
ရှိ၊ ဖြစ်ထတုံသောသားရဲကို မြင်ရသော အခါ၊
၉ အံ့ဩကြလိမ့်မည်။-ဤအရာ၌ပညာနှင့်ပြည့်စုံ
သောဉာဏ်ရှိ၏။ ခေါင်းခုနစ်လုံးကား၊မိန်းမထိုင်
၁၀ သောတောင်ခုနစ်လုံးဖြစ်၏။-ရှင်ဘုရင်ခုနစ်ပါး
လည်းဖြစ်၏။ ငါးပါးကျပြီ။ တပါးရှိသေး၏။တ
ပါးဖြစ်သေးမည်။ဖြစ်သောအခါ၊ခဏသာ
၁၁ တည်လိမ့် မည်။- ဖြစ်ဘူး၍၊ ဖြစ်ဆဲ မရှိသော
သားရဲသည် ရှစ်ပါးမြောက်သောရှင်ဘုရင်ဖြစ်
၏။ခုနစ်ပါးအဝင်လည်းဖြစ်၏။ပျက်စီးခြင်းသို့
၁၂ ရောက်ရ လိမ့်မည်။- ငါမြင်သော ဦး ဆယ်
ချောင်းကား၊မင်းအာဏာစက်ကိုမရသေးသော
ရှင်ဘုရင် ဆယ်ပါးဖြစ်၏။ ရှင်ဘုရင်၏ အာဏာ
စက်ကို သားရဲ နှင့်အတူ တနာရီတခဏ ရကြလိမ့်
၁၃ မည်။- ထိုသူတို့သည်သဘောတူ၍၊ မိမိတို့တန်
ခိုး၊ အာဏာ စက်ကို သားရဲ ၌ အပ်ပေးကြ လိမ့်
၁၄ မည်။-သူတို့သည်သိုးသငယ်ကိုစစ်တိုက်၍ သိုး
သငယ်သည်နိုင်တော်မူမည်။အကြောင်းမူကား၊
သိုးသငယ်သည် သခင်တို့၏ သခင်၊ ဘုရင်တို့၏
ဘုရင်ဖြစ်တော်မူ၏။ကိုယ်တော်နှင့်အတူရှိသော
သူတို့သည် လည်း၊ ခေါ်တော် မူသောသူ၊ ရွေး
နှုတ်တော်မူသောသူ၊ သစ္စာရှိသော သူဖြစ်ကြ

၁၅ ၏။-ထိုနှုတ်ခွန်း၍ပြည်တန်ဆာထိုင်သောရေကား၊
အသီးအသီးထသောသာစကားကိုပြောသောလူအ
၁၆ မျိုးမျိုး အစုစု ဖြစ်သတည်း။- ယခုမြင်သောဦး
ချိုဆယ်ချောင်းနှင့် သားရဲသည် ပြည်တန်ဆာကို
မုန်း၍သူ၏စည်းစိမ်ကိုဖျက်ဆီးလိမ့်မည်၊ သူ၏
အဝတ်တန်ဆာကိုချွတ်၍သူ၏အသားကိုကိုက်
၁၇ စားလိမ့်မည်။- သူ၏ကိုယ်ကိုလည်း မီးရှို့လိမ့်
မည်။အကြောင်းမူကား၊သူတို့သည်ဘုရားသခင်
၏အလိုတော်ကိုပြုခြင်း၄ါငှါ၎င်း၊နှုတ်ကပတ်တော်
မပြည့်စုံမှီတိုင်အောင်၊ သဘောတူ၍ မိမိတို့နိုင်
ငံများကို သားရဲ၌ အပ်ပေးခြင်းငှါ ၎င်း၊ ဘုရား
၁၈ သခင်သည် သူတို့၌ အကြံပေးတော်မူ၏။- ယခု
မြင်သော မိမ့သည်လည်း၊ လောကီရှင်ဘုရင်တို့
ကိုအုပ်စိုးသောမြို့ကြီးဖြစ်သတည်းဟု၊ကောင်း
ကင်တမန်ပြောဆို၏။

၁၈

၁ ထိုနောက်မှ ကောင်းကင် တမန် တပါး သည်
ကြီးစွာသော တန်ခိုးနှင့် ပြည့်စုံ၍ ကောင်းကင်
ကဆင်းသက်သည်ကိုငါမြင်၏။ သူ၏ရောင်ခြည်
၂ အားဖြင့်မြေကြီးထွန်းလင်းလျက်ရှိ၏။-သူသည်
ကျယ်သော အသံနှင့် ကြွေးကြော်၍၊ ဗာဗုလုန်
မြို့ကြီးပြိုလဲပြီ။ ပြိုလဲပြီ။ နတ်ဆိုးနေရာ ဖြစ်လေ
ပြီ။ညစ်ညူးသော ဝိညာဉ်မျိုး၏တွင်းဖြစ်လေပြီ။
ညစ်ညူး၍စက်ဆုပ်ဖွယ်သောငှက်မျိုး၏မှီခိုရာ
၃ ဖြစ်လေပြီ။-အကြောင်းမူကား၊လူမျိုးအပေါင်း
တို့သည် သူ၏မတရားသော မေထုန်၏ အဆိပ်အ
တောက် တည်းဟူသော စပျစ်ရည်ကို သောက်
ကြပြီ။လောကီရှင်ဘုရင်တို့သည်မတရားသော
မေထုန်ကို သူနှင့် ပြုကြပြီ။ လောကီကုန်သည်တို့
သည်သူ၏ကာမဂုဏ်စည်းစိမ်ကြွယ်ဝခြင်းအား
ဖြင့်ဥစ္စာရတတ်ကြပြီဟုပြောဆို၏။
၄ အခြားသောကောင်းကင်အသံကား၊ ငါ၏လူ
မျိုးတို့၊သူ၏အပြစ်တို့ကိုဆက်ဆံခြင်းနှင့်၎င်း၊သူ
၏ဘေးဒဏ်များကိုခံခြင်းနှင့်၎င်း ကင်းလွတ်အံ့
၅ သောငှါ၊သူ၏အထဲကထွက်ကြလော့။- သူ၏အ
ပြစ်တို့သည် ကောင်းကင်ဘုံ တိုင်အောင် မှီကြ
သည်ဖြစ်၍၊သူ၏မတရားသောအမှုတို့ကိုဘုရား
၆ သခင်သတိရတော်မူပြီ။-သူသည်သင်တို့အားပြစ်
ကို ဆပ်ပေးသည် နည်းတူ၊ သူ၌ ဆပ် ပေး ကြ
လော့။ သူ၏အကျင့်အတိုင်း နှစ်ဆထပ်၍ စီရင်
ကြလော့။ သူလောင်းသောဖလား၌ သူအဖို့နှစ်
၇ ဆတိုး၍လောင်းကြလော့။- သူသည် ကိုယ်ကို
ချီးမြှောက်၍ကာမဂုဏ်၌ပျော်မွေ့သည်အတိုင်း၊
သူ၌ ပြင်းစွာသော ဆုံးမခြင်း၊ စိတ်မသာ ညည်း
တွားခြင်းကို ဖြစ်စေကြလော့။ ငါကား မိဖုရား
ဖြစ်၏။ မုဆိုးမမဟုတ်။ စိတ်မသာ ညည်းတွား
ခြင်းကိုမသိရဟု၊ သူသည်အောင်းမေ့တတ်၏။-
၈ ထိုကြောင့်၊ သူခံရသော သေခြင်း ဘေး၊ စိတ်မ
သာ ညည်းတွားခြင်းဘေး၊ မွတ်သိပ်ခြင်း ဘေး
ဒဏ်များတို့နှင့် တနေ့ချင်းတွင် တွေ့၍၊ မီးဖြင့်
လည်းကျွမ်းလောင်ခြင်းကိုခံရလိမ့်မည်။ သူကို
စီရင်တော်မူသော ထာဝရ အရှင် ဘုရားသခင်
သည် ခွန်အားဗလကြီးတော်မူ၏။
၉ မတရားသောမေထုန်ကိုသူနှင့်ပြု၍ ကာမဂုဏ်
၌ပျော်မွေ့သော လောကီရှင်ဘုရင်တို့သည်၊ သူ
၁၀ ကျွမ်းလောင်ရာ မီးခိုးကိုမြင်သောအခါ၊- သူခံ
ရသော ညှဉ်းဆဲခြင်းဝေဒနာကို ကြောက်၍အ
ဝေးကရပ်လျက်၊ဖြစ်ရလေချင်း။ဖြစ်ရလေချင်း။
ဗာဗုလုန်မြို့ကြီး၊ မြို့စွမ်း၊သင်သည် တနာရီချင်း
တွင်အပြစ်စီရင်ခြင်းသို့ ရောက်ပါပြီတကားဟု
၍၊ သူကြောင့်ငိုကြွေးမြည်တမ်းကြလိမ့်မည်။-
၁၁ လောကီ ကုန်သည် တို့သည် ထိုအတူ ငိုကြွေး၍
စိတ်မသာညည်းတွားကြလိမ့်မည်။အကြောင်း
မူကား၊ သူတို့ကုန်သွယ်ဥစ္စာ တည်းဟူသော၊-
၁၂ ရွှေ၊ ငွေ၊ ကျောက်ကောင်း၊ ပုလဲ၊ ပိတ်ချော၊ကတ္တီ
ပါ၊ပဲ၊ပုဆိုးနီ၊ အမျိုးမျိုးသောအိန့်သစ်သား၊အ
မျိုးမျိုးသောဆင်စွယ်တန်ဆာ၊ အမျိုးမျိုးသော
သစ်ကောင်းတန်ဆာ၊ကြေးဝါတန်ဆာ၊ သံတန်
၁၃ ဆာ၊ကျောက်ဖြူတန်ဆာ၊-သစ်ကြံပိုး၊အမေရုန်၊
နံ့သာပေါင်း၊ဆီမွှေး၊ လောဗန်၊ စပျစ်ရည်၊ ဆီ၊
မုန့်ညက်၊ဂျုံဆန်၊နွား၊သိုး၊မြင်း၊ရထား၊အစေ
ခံကျွန်၊ လူဝိညာဉ်တို့ကိုအဘယ်သူမျှ နောက်တ
၁၄ ဖန်မဝယ်ရ။- သင်သည်အလွန် တပ်မက်သော
သစ်သီး မျိုးလည်း ပျောက်ကုန်ပြီ။ ဆူဖြိုးသော
အရာ၊ တင့်တယ်သော အရာရှိသမျှ တို့ လည်း
၁၅ ပျောက်ကုန်ပြီ။နောက်တဖန်မတွေ့ရ။- သူကိုအ
မှီပြု၍ထိုအရာများကိုရောင်းဝယ်သဖြင့်၊ ငွေရ
တတ်သောကုန်သည်တို့သည်သူခံရသောညှဉ်း
ဆဲ ခြင်း ဝေဒနာ ကို ကြောက် ၍၊ အ ဝေး က ရပ်
၁၆ လျက်၊-ဖြစ်ရလေချင်း။ဖြစ်ရလေချင်း။ပိတ်ချော၊
အဝတ်နီ၊အဝတ်မောင်းကိုဝတ်၍၊ ရွှေတန်ဆာ၊
ကျောက်မြတ် တန် ဆာ၊ ပုလဲ တန်ဆာ ကို ဆင်
၁၇ သောမြို့ကြီး၊- ဤမျှလောက်ကြီးစွာသော စည်း
စိမ်သည်တနာရီချင်းတွင်ပျက်စီးပါပြီတကားဟု၊

ဒိုင်ကျွန်း၌မိတ်မသာညည်းတွားကြလိမ့်မည်။ ခပ်
သိမ်းသော သင်္ဘောသူကြီး၊ အရပ်ရပ်သို့ သွင်
ကူးတတ်သောသူအပေါင်းတို့နှင့်သင်္ဘောသား၊
ပင်လယ်ကုန်သည်ရှိသမျှတို့သည်အဝေးကရပ်
၁၈ ၍၊- သူကျွမ်းလောင်ရာမီးခိုးကိုမြင်လျှင်၊ ထိုမြို့
၁၉ နှင့် အဘယ်မြို့တူသနည်းဟူ၍ငိုင်၊- မြစ်ရလေ
ချင်း။မြစ်ရလေချင်း။ပင်လယ်ကူးသောသင်္ဘော
ကိုပိုင်သောသူအပေါင်းတို့အား ကိုယ်စည်းစိမ်
ကိုပေး၍ငွေရတတ်စေသောမြို့ကြီး၊ တနာရီချင်း
တွင် ပျက်စီးပါပြီ တကား ဟူ၍ ငိုင်ခေါ်ဟစ်
လျှက်၊ မြေမှုန့်ကို မိမိတို့ ခေါင်းပေါ်မှာ ပြစ်တင်
လျှက်၊ ဒိုင်ကျွန်း၌ မိတ်မသာညည်းတွားကြလိမ့်
၂၀ မည်။-ကောင်းကင်မှစ၍သန့်ရှင်းသူတမန်တော်
ပရောဖက်တို့၊ သူကိုကြည့်ရှု၍ဝမ်းမြောက်ကြ
လော့။ ဘုရားသခင်သည် သင်တို့အကဲ့စီရင်၍၊
သူကို တရားစီရင်တော်မူပြီဟု ပြောဆိုသည်ကို
ငါကြား၏။

၂၁ ခွန်အားကြီးသော ကောင်းကင် တမန်တပါး
သည်ကြီးစွာသောကြိတ်ဆုံကျောက်ကဲ့သို့သော
ကျောက်ကိုချီယူ၍ပင်လယ်ထဲသို့ချပြစ်ပြီးလျှင်
ထိုနည်းတူ၊ဗာဗုလုန်မြို့ကြီးကိုပြင်းထန်စွာချပြစ်
၂၂ ၍နောက်တဖန်မပေါ်မရှိရ။- စောင်းသမား၊အ
ငြိမ့်သမား၊ ပုလွေသမား၊ တံပိုးသမား များ တီး
မှုတ်သောအသံလည်းသင့်အထဲ၌နောက်တဖန်မ
ကြားရ။အမျိုးမျိုးသောလက်တတ်သမားတို့တွင်
တယောက်မျှသင့်အထဲ၌နောက်တဖန်မပေါ်မရှိ
ရ။ ကြိတ်ဆုံသံလည်းသင့်အထဲ၌နောက်တဖန်မ
၂၃ ကြားရ။-ဆီမီးအလင်းလည်းသင့်အထဲ၌နောက်
တဖန်မထွန်းမလင်းရ။မင်္ဂလာဆောင်သတို့သား
သတို့သမီးအသံကိုလည်းသင့်အထဲ၌နောက်တဖန်
မကြားရ။အကြောင်းမူကား၊လောကီမှူးမတ်တို့
သည်သင်၏ကုန်သည်ဖြစ်ကြပြီ။ လူအမျိုးမျိုးတို့
သည်သင်၏ပြုစားခြင်းပရိယာယ်အားဖြင့်လှည့်
ဖြားခြင်းကို ခံရကြပြီဟု၊ ကောင်းကင် တမန်
၂၄ ပြောဆို၏။- ပရောဖက်တို့၏ အသွေး၊ သန့်ရှင်း
သူတို့၏ အသွေး၊ မြေကြီးပေါ်မှာကွပ်မျက်သော
သူအပေါင်းတို့၏အသွေးကိုထိုမြို့၌တွေ့၏။

၁၉

၁ ထိုနောက်မှ ကောင်းကင်ဘုံ၌ စည်းဝေးသော
သူ အများတို့၏ အသံကြီးကား၊ ဟာလေလုယ။
ငါတို့ ဘုရားသခင်၏ကယ်တင်တော်မူခြင်း၊ ချမ်း
၂ သာ၊ ဘုန်းအသရေတန်ခိုးတော်ပေတည်း။- မိ
ရင်တော်မူခြင်း၊ အရာတို့သည် ဟုတ်မှန် ဖြောင့်
မတ်ကြ၏။ မိမိမတရားသောမေထုန်အားဖြင့်မြေ
ကြီးကို ပုပ်ပွက်စေသော ပြည်တန်ဆာကြီးကို
စစ်ကြောစီရင်တော်မူပြီ။ ကိုယ်တော်ကျွန်တို့၏
အသွေးကို သူ၏လက်ဖြင့် သွန်းသောအပြစ်နှင့်
အလျောက် ဒဏ်ပေးတော်မူပြီဟု ပြောဆို ကြ
၃ သည်ကိုငါကြား၏။-တဖန်တုံ၊ဟာလေလုယဟူ
၍ငိုင်၊သူ၏မီးခိုးသည်ကမ္ဘာအဆက်ဆက်တက်
၄ သည်ဟူ၍ငိုင် ပြောဆိုကြ၏။- အသက်ကြီးသူ
နှစ်ဆယ်လေးပါးနှင့် သတ္တဝါလေးပါးတို့သည်
ပြပ်ဝပ်၍၊ပလ္လင်တော်ပေါ်မှာထိုင်တော်မူသော
ဘုရားသခင်ကို ကိုးကွယ်လျှက်၊ အာမင်၊ ဟာ
၅ လေလုယဟု လျှောက်ဆိုကြ၏။- ပလ္လင်တော်
ပေါ်က ထွက်သော အသံကား၊ ဘုရားသခင်၏
ကျွန်အပေါင်းတို့နှင့်၊ဘုရားသခင်ကိုကြောက်ရွံ့
သောသူအကြီးအငယ်အပေါင်းတို့၊ ငါတို့ဘုရား
သခင်ကိုချီးမွမ်းကြလော့ဟုဆိုသတည်း။

၆ တဖန်တုံ၊ ဟာလေလုယ၊ အနန္တတန်ခိုးနှင့်
ပြည့်စုံတော်မူသောထာဝရအရှင်၊ ငါတို့ဘုရား
၇ သခင်သည် မင်းစံတော်မူ၏။- ငါတို့သည် ဝမ်း
မြောက် ရွှင်လန်းကြကုန်အံ့၊ ဂုဏ်တော်ကို ချီး
မွမ်းကြကုန်အံ့၊ အကြောင်းမူကား၊ သိုးသငယ်
၏ မင်္ဂလာဆောင်ပွဲကို ခံချိန်ရှိပြီ၊ သူ၏မိန်းမသည်
ကိုယ်ကို တန်ဆာဆင်ပြီဟု၊ စည်းဝေးသောသူ
အများတို့၏ အသံ၊ သမုဒ္ဒရာသံ၊ ပြင်းစွာသော
၈ မိုဃ်းကြိုးသံကဲ့သို့ငါကြား၏။- ထိုမိန်းမသည်စင်
ကြယ်ပြောင်လက်သောပိတ်ချောကို ဝတ်ဆင်ရ
သောအခွင့်ကိုရ၏၊ ထိုပိတ်ချောမူကား၊သန့်ရှင်း
၉ သူတို့၏ဖြောင့်မတ်ခြင်းဖြစ်သတည်း။- ကောင်း
ကင်တမန်ကလည်း၊ သိုးသငယ်၏မင်္ဂလာဆောင်
ပွဲသို့ ခေါ်ဖိတ်ခြင်းကို ခံရသောသူတို့သည် မင်္ဂ
လာရှိကြ၏ဟုရေးထားလော့ဟူ၍ငိုင်၊ ဤစကား
သည်ဘုရားသခင်၏ နှုတ်တော်ထွက် စင်စစ်ဖြစ်
၁၀ ၏ဟူ၍ငါ့အားပြောဆို၏။- ငါသည်ထိုသူကို
ကိုးကွယ်ခြင်းငှါသူ၏ခြေရင်း၌ပြပ်ဝပ်၏။ သူက
လည်း၊ မပြုပါနှင့်၊ ငါကား၊ သင်၏ ထုပ် ဖော်
ဆောင်ဖက်ဖြစ်၏၊ ယေရှု၏ သက်သေခံတော်မူ
ချက်ကိုဆောင်သော၊ သင်၏ညီအစ်ကိုတို့၏ထုပ်
ဖော် ဆောင်ဖက် လည်းဖြစ်၏၊ ဘုရားသခင်ကို
ကိုးကွယ်လော့၊ အကြောင်းမူကား၊ ပရောဖက်
ဟောသော စကား ချက်သည် ယေရှု၏
သက်သေဖြစ်သတည်းဟုငါ့အားပြောဆို၏။

၁၁ ထိုအခါကောင်းကင်ဘုံဖွင့်လှစ်လျက်ရှိသည်
ကိုငါမြင်လျှင်၊မြင်းဖြူရှိ၏။မြင်းစီးသောသူသည်
သစ္စာဟူသောအမည်၊ သမ္မာဟူသော အမည်ရှိ
သတည်း။ ထိုသူသည် တရားသဖြင့် စီရင်တတ်
၁၂ ၏။တရားသဖြင့်စစ်တိုက်တတ်၏။-မျက်စိတော်
သည်မီးလျှံကဲ့သို့ဖြစ်၏။ခေါင်းတော်ပေါ်၌သရ
ဖူများကိုဆောင်း၏။ကိုယ်တိုင်မှတပါး၊အဘယ်
သူမျှမသိသော၊နာမတော်သည် ရေးထားလျက်
၁၃ ရှိ၏။- အသွေး၌နှစ်ပြီးသောအဝတ်ကိုဝတ်၏။
ဘုရားသခင်၏နှုတ်ကပတ်တော်ဟူသောအမည်
၁၄ ရှိ၏။-ကောင်းကင်ဗိုလ်ခြေတို့သည်မြင်းဖြူကိုစီး
လျက်၊စင်ကြယ်သောပိတ်ချောကိုဝတ်လျက်၊
၁၅ နောက်တော်သို့လိုက်ကြ၏။- လူမျိုးတို့ကိုဒဏ်
ခတ်စရာဘို့၊ ထက်သောသန်လျက်သည် ခံတွင်း
တော်ထဲကထွက်၏။သူတို့ကိုသံလှံတံနှင့်အုပ်စိုး
တော်မူမည်။ အနန္တတန်ခိုးနှင့် ပြည့်စုံတော်မူ
သောဘုရားသခင်၏ဒေါသအမျက်တော်၏စပျစ်
၁၆ သီးနယ်ရာတန်ဆာကိုနင်းတော်မူမည်။-ဘုရင်
တို့၏ဘုရင်၊ သခင်တို့၏ သခင်ဟု ဘွဲ့နာမတော်
သည် အဝတ်တော်၌၎င်း၊ ပေါင်တော်၌၎င်း ရေး
ထားလျက်ရှိ၏။
၁၇ ကောင်းကင် တမန် တပါးသည် နေထဲမှာ ရပ်
၁၈ လျက်ရှိသည်ကိုငါမြင်၏။သူသည်မိုဃ်းကောင်း
ကင်အထက်၌ပျံတတ်သောငှက်အပေါင်းတို့ကို
ကြီးသော အသံနှင့် ခေါ်၍၊ လာကြလော့။ ရှင်
ဘုရင်အသား၊စစ်သူကြီးအသား၊သူရဲအသား၊
မြင်းအသား၊ မြင်းစီးသောသူ အသား၊ အစေခံ
ကျွန်၊လူလွတ်၊အကြီးအငယ်အမျိုးမျိုးသောလူ
တို့၏အသားကို စားအံ့သောငှါ၊ ကြီးမြတ်တော်
မူသော ဘုရားသခင်၏ ပွဲတော်သို့ စည်းဝေးကြ
၁၉ လော့ဟု ဟစ်ကြော်၏။- သားရဲမှစ၍ လောကီ
ရှင်ဘုရင်တို့နှင့် သူတို့၏ ဗိုလ်ခြေများတို့သည်၊
မြင်းစီးတော်မူသောသူနှင့် ဗိုလ်ခြေတော်ကို စစ်
တိုက်ခြင်းငှါ၊ စည်းဝေးကြသည်ကို ငါမြင်၏။-
၂၀ သားရဲကို ဖမ်းမိကြ၏။ သားရဲ၏ တံဆိပ်ထက်
မှတ်ကိုခံ၍၊ သူ၏ရုပ်တုကိုကိုးကွယ်သောသူတို့
ကို လှည့်ဖြား၍၊ သားရဲရှေ့၌ နိမိတ်များကို ပြ
တတ်သော မိစ္ဆာ ပရောဖက်ကိုလည်း ဖမ်းမိကြ
၏။အသက်ရှင်လျက်ရှိသောထိုသူနှစ်ဦးကိုကန့်
၂၁ နှင့်လောင်သောမီးအိုင်ထဲသို့ချပြစ်ကြ၏။-ကြွင်း
သော သူတို့သည်၊ မြင်းစီး တော် မူသော သူ၏ ခံ
တွင်းတော်ထဲက ထွက်သောသန်လျက်နှင့် ကွပ်
မျက်ခြင်းကို ခံရကြ၏။ သူတို့၏ အသားကိုငှက်
အပေါင်းတို့သည်ဝစွာစားရကြ၏။

၂၀

၁ တဖန် ကောင်းကင် တမန် သည် အနက် ဆုံး
သောတွင်း၏သော့နှင့်သံကြိုးကြီးကို ကိုင်လျက်
ကောင်းကင်က ဆင်းသက် သည်ကို ငါမြင်၏။-
၂ ရှေးမြွေဟောင်း၊ မာရ်နတ် စာတန် တည်းဟူ
သောနဂါးကို ကိုင်ဖမ်း၍၊ အနှစ်တထောင်ဘို့
၃ ချည်နှောင်လေ၏။-အနှစ်တထောင်မကုန်မှီတိုင်
အောင်၊ လူအမျိုးမျိုးတို့ကို မလှည့်ဖြားရမည်
အကြောင်း၊ အနက်ဆုံးသော တွင်းထဲသို့ ချပြစ်
လှောင်ထား၍ တံဆိပ် ခတ်လေ၏။ အနှစ်တ
ထောင်ကုန်ပြီးမှတဖန်ခဏလွှတ်ရဦးမည်။
၄ ပလ္လင်များကိုလည်းငါမြင်၏။ ပလ္လင်ပေါ်မှာ
ထိုင်သောသူတို့သည် တရားစီရင်ရသော အခွင့်
ကိုရကြ၏။သားရဲနှင့်သူ၏ရုပ်တုကို မကိုးကွယ်၊
သူ၏ တံဆိပ်ထက်မှတ်ကို နဖူး၌မခံ၊ လက်၌မခံ
ဘဲနေ၍၊ ယေရှု၏ သက်သေခံ တော်မူချက် နှင့်
ဘုရားသခင်၏နှုတ်ကပတ်တော်ကြောင့်၊ လည်
ပင်းဖြတ်ခြင်းကို ခံရသော သူတို့၏ ဝိညာဉ်များ
ကိုငါမြင်၏။ သူတို့သည်အသက်ရှင်၍အနှစ်တ
ထောင်ပတ်လုံး၊ ခရစ်တော်နှင့်အတူ စိုးစံရကြ
၅ ၏။-ကြွင်းသောလူသေတို့သည်ထိုအနှစ်တထောင်
မကုန်မှီ အသက်မရှင်ရကြ။ ဤထမြောက်ခြင်း
၆ ကား၊ပဌမထမြောက်ခြင်းဖြစ်သတည်း။- ပဌမ
ထမြောက်ခြင်းကိုဝင်စားသောသူသည် မင်္ဂလာ
ရှိသောသူ၊ သန့်ရှင်းသောသူဖြစ်၏။ ထိုသို့သော
သူသည် ဒုတိယသေခြင်း၏လက်နှင့် ကင်းလွတ်
လျက်၊ ဘုရားသခင်၏ ယဇ်ပုရောဟိတ်၊ ခရစ်
တော်၏ယဇ်ပုရောဟိတ်ဖြစ်၍၊ အနှစ်တထောင်
ပတ်လုံး၊ခရစ်တော်နှင့်အတူ စိုးစံရကြလိမ့်မည်။
၇ ထို အနှစ်တထောင် ကုန်ပြီးမှ၊ စာတန်သည်
၈ ထောင်ထဲကလွှတ်သောအခွင့်ကိုရ၍၊ အရေအ
တွက်အားဖြင့်သမုဒ္ဒရာသဲလုံးနှင့်အမျှများသော
ဂေါဂ၊ မာဂေါဂတည်းဟူသော၊ မြေကြီးထေး
မျက်နှာပေါ်မှာနေသောလူအမျိုးမျိုးတို့ကိုလှည့်
ဖြားအံ့သောငှါ၎င်း၊ စစ်တိုက်ဘို့စည်းဝေးစေ
၉ ခြင်းငှါ၎င်းတက်လိမ့်မည်။- ထိုသူများတို့သည်
မြေကြီးမျက်နှာပေါ်သို့ တက်၍၊ သန့်ရှင်းသူတို့
၏တပ်ကို၎င်း၊ ချစ်ဖွယ်သောမြို့တော်ကို၎င်းဝိုင်း
ကြ၏။ထိုအခါဘုရားသခင်အထံတော်၊ ကောင်း
၁၀ ကင်မှ မီးကျ၍ သူတို့ကို မြိုထေ၏။- သူတို့ကို

ဖြည့်ခြားသောမာရ်နတ်ကိုလည်း၊ သားရဲနှင့်
မိစ္ဆာပရောဖက်ရှိရာ၊ ကန့်နှင့် ရောနှောသောမီး
အိုင်ထဲသို့ချပြစ်လျှင်၊သူတို့သည်နေ့ညဉ့်မပြတ်
ကမ္ဘာအဆက်ဆက်ပြင်းစွာသောဝေဒနာကိုခံရ
ကြထတုံ။
၁၁ တဖန်တုံ၊ ဖြူသော ပလ္လင်ကြီးကိုငှင်၊ ပလ္လင်
ပေါ်မှာ ထိုင်တော်မူသော သူကို ငှင် ငါမြင်၏။
ကောင်းကင်နှင့်မြေကြီးသည် မျက်နှာတော်ရှေ့
၁၂ မှပြေးလွှင့်၍သူတို့နေစရာအရပ်မရှိ။- သေလွန်
သောသူအကြီးအငယ်တို့သည် ပလ္လင်တော်ရှေ့
မှာရပ်နေကြသည်ကိုငါမြင်၏။ စာစောင်များကို
ဖွင့်ထား၏။ အသက်စာစောင်တည်းဟူသောအ
ခြားတပါးသော စာစောင်ကိုလည်း ဖွင့်လေ၏။
သေလွန်သောသူတို့သည်၊မိမိတို့အကျင့်အတိုင်း၊
စာစောင်တို့၌ရေးထားချက်များနှင့်အညီတရား
၁၃ စီရင်ခြင်းကို ခံရကြ၏။- သမုဒ္ဒရာသည် မိမိ၌ ရှိ
သော လူသေတို့ကို အပ်ပေး၏။ မရဏာနှင့်မရ
ဏာနိုင်ငံသည်လည်း မိမိတို့၌ရှိသောလူသေတို့
ကို အပ်ပေးကြ၏။ လူအသီးအသီးတို့သည် မိမိ
တို့ အကျင့် အတိုင်း တရားစီရင် ခြင်းကို ခံရကြ
၁၄ ၏။-ထိုအခါမရဏာနှင့်မရဏာနိုင်ငံကိုမီးအိုင်
ထဲသို့ချပြစ်လေ၏။ထိုသေခြင်းကားဒုတိယသေ
၁၅ ခြင်းဖြစ်သတည်း။- အသက်စာစောင်၌စာရင်း
မဝင်သော သူရှိသမျှတို့ကိုလည်း မီးအိုင်ထဲသို့
ချပြစ်လေ၏။

၂၁

၁ ကောင်းကင်သစ်နှင့်မြေကြီးသစ်ကိုလည်းငါ
မြင်၏။ အထက်သို့နည်းဟူမူကား၊ ရှေးကောင်း
ကင်နှင့်ရှေးမြေကြီးသည်ရွေ့သွားကြပြီ။ ထိုအ
၂ ခါမှစ၍ သမုဒ္ဒရာမရှိ။- သန့်ရှင်းသောမြို့တည်း
ဟူသောယေရုရှလင်မြို့သစ်သည် မိမိခင်ပွန်းအို့
တန်ဆာဆင်သော မင်္ဂလာဆောင်သတို့ သမီး ကဲ့
သို့ ဖွင့်ဆင် လျက်၊ ဘုရား သခင် အထံ တော်၊
ကောင်းကင်ဘုံမှ ဆင်းသက်သည်ကိုငါမြင်၏။-
၃ ကောင်းကင်မှကြီးသောအသံကား၊ဘုရားသခင်
၏တဲတော်သည် လူတို့တွင်ရှိ၏။ လူတို့နှင့်အတူ
ကျိန်းဝပ်တော်မူမည်။သူတို့သည်ကိုယ်တော်၏
လူ ဖြစ်ကြလိမ့်မည်။ ဘုရား သခင် သည် ကိုယ်
တော်တိုင်သူတို့နှင့်အတူ ရှိနေ၍ သူတို့၏ဘုရား
၄ သခင်ဖြစ်တော်မူမည်။-ဘုရားသခင်သည်သူတို့
၏မျက်စိ၌ မျက်ရည်ရှိသမျှတို့ကို သုတ်တော်မူ
မည်။ နောက်တဖန် သေခြင်းမရှိရ။ မိတ်မသာ

ညည်းတွားခြင်း၊ အော်ဟစ်ခြင်း၊ ပင်ပန်းခြင်း
လည်း မရှိရ။ အကြောင်းမူကား၊ ရှေးဖြစ်သော
၅ သောအရာတို့သည်ရွေ့သွားကြပြီ။-ပလ္လင်တော်
ပေါ်မှာ ထိုင်တော်မူသော သူကလည်း၊ ငါသည်
ခပ်သိမ်းသောအရာတို့ကို အသစ်ဖန်ဆင်းသည်
ဟု မိန့်တော်မူ၏။ တဖန်တုံ၊ ရေးထားလော့။ ဤ
စကားသည် သစ္စာစကား၊ ယုတ်မှန်သောစကား
၆ ဖြစ်၏ဟူ၍ငှင်၊- အမှုပြီးပြီ။ငါသည်အာလဖဖြစ်
၏။ဩမေဂါလည်းဖြစ်၏။ အစနှင့်အဆုံးလည်း
ဖြစ်၏။ရေငတ်သောသူအား အသက်စမ်းရေကို
၇ အဘိုးမယူဘဲ ငါပေးမည်။- အောင်မြင်သောသူ
သည်ဤအရာတို့ကိုအမွေခံရလိမ့်မည်။ ငါသည်
သူ၏ဘုရားသခင်ဖြစ်မည်၊ သူသည်လည်း ငါ၏
၈ သားဖြစ်လိမ့်မည်။- ကြောက်တတ်သောသူ၊ မ
ယုံကြည်သောသူ၊စက်ဆုပ်ရွံရှာဖွယ်သောသူ၊
လူအသက်ကို သတ်သောသူ၊ မတရားသော မေ
ထုန်၌မှိုဲသောသူ၊ပြုစားတတ်သောသူ၊ရုပ်တုကို
ကိုးကွယ်သေ ာသူ၊သစ္စာဖောက်သောသူအပေါင်း
တို့မူကား၊ ဒုတိယသေခြင်းတည်းဟူသော ကန့်
နှင့်လောင်သော မီးအိုင်ထဲ၌ မိမိတို့ဝေစုကိုရကြ
လိမ့်မည်ဟူ၍ငှင်အားမိန့်တော်မူ၏။
၉ နောက်ဆုံးသော ဘေးဒဏ်ခုနစ်ပါးနှင့်ပြည့်
သော ဖလားခုနစ်လုံးကို ဆောင်သော ကောင်း
ကင်တမန် ခုနစ်ပါး တွင် တပါး သည် လာ ပြီး
လျှင်၊ငါကိုခွတ်ဆက်၍၊လာခဲ့ပါ။ သိုးသငယ်၏
ခင်ပွန်းတည်းဟူသော မင်္ဂလာဆောင်သတို့သမီး
၁၀ ကို ငါပြမည်ဟု ပြောဆိုလျက်၊- ကြီးမြင့်သော
တောင်သို့ ဝိညာဉ် တော် အားဖြင့် ငါ့ကို ဆောင်
သွား၍သန့်ရှင်းသောယေရုရှလင်မြို့သည်ဘုရား
သခင်၏ ဘုန်းတော် နှင့် ပြည့် စုံ လျက်၊ ဘုရား
သခင် အထံတော်၊ ကောင်းကင်ဘုံမှ ဆင်းသက်
၁၁ သည်ကိုငှင်အားပြလေ၏။-ထိုမြို့၏အရောင်အဝါ
သည်၊ ကျောက်သလင်းနဂါးသွဲ့ကဲ့သို့၊ အမြတ်
၁၂ ဆုံးသော ကျောက်မျက်ရွှန်းနှင့်တူ၏။- ကြီးမြင့်
၁၃ သောမြို့ရိုးလည်းရှိ၏။ အရှေ့အရပ်၌ တံခါးသုံး
ပေါက်၊မြောက်ဘက်၌သုံးပေါက်၊တောင်ဘက်
၌သုံးပေါက်၊ အနောက်ဘက်၌ သုံးပေါက်၊ တံ
ခါးတဆယ်နှစ်ပေါက်ရှိ၏။ထိုတံခါးတဆယ်နှစ်
ပေါက်၌ ကောင်းကင်တမန်တဆယ်နှစ်ပါးရှိ၏။
ဣသရေလအမျိုးတဆယ်နှစ်မျိုး၏နာမတို့သည်
၁၄ ထိုတံခါးပေါ်၌ ရေးထားလျက် ရှိ၏။- မြို့ရိုးအ
မြစ်သည်တဆယ်နှစ်ထပ်ရှိ၏။ သိုးသငယ်၏ထ

မန်တော်တဆယ်နှစ်ပါး၏နာမတို့သည်မြို့ရိုးအ
မြစ်ပေါ်၌ရေးထားလျက်ရှိကြ၏။
၁၅ ငါနှင့်စကားပြောသောသူသည်၊မြို့ကိုဝင်၊တံ
ခါးတို့ကိုဝင်၊မြို့ရိုးကိုဝင်တိုင်းခြင်းငှါ၊တိုင်းစရာ
၁၆ ရွှေကျူလုံးပါ၏။- မြို့သည်စတုရန်းလေးထောင့်
ဖြစ်၏။ထိုသူသည်ကျူလုံးနှင့်မြို့ကိုတိုင်း၍မြို့၏
အနံ၊အလျား၊ အမြင့်၊ယူဇနာတရာနှစ်ဆယ်စီရှိ
၁၇ ၏။- မြို့ရိုးဒုကိုတိုင်း၍၊ လူအတောင်ကဲ့သို့သော
ကောင်းကင်တမန် အတောင် အားဖြင့်၊ တရာ
၁၈ လေးဆယ်လေးတောင်ရှိ၏။- မြို့ရိုး ကိုယ်သည်
နဂါးသွဲကျောက်ဖြစ်၏။မြို့သည်ထဉ်းကြဉ်လင်
၁၉ သောဖန်နှင့်တူသောရွှေစင်ဖြစ်၏။- မြို့ရိုးအမြစ်
တို့သည်ကျောက်မြတ်အမျိုးမျိုးနှင့်ပြဉ်စုံကြ၏။
ပဌမအမြစ်ကားနဂါးသွဲဖြစ်၏။ ဒုတိယအမြစ်
ကားနီလာ၊တတိယအမြစ်ကားမဟူရာ၊စတုတ္ထ
၂၀ အမြစ်ကားမြ၊- ပဉ္စမအမြစ်ကားကြောင်၊ဆဋ္ဌ
မအမျစ်ကားကျောက်နီ၊ သတ္တမအမြစ်ကားခရု
သုလိတ်၊ အဋ္ဌမအမြစ်ကားမျက်ရွဲ၊ နဝမအမြစ်
ကားဥဿဖရား၊ ဒသမအမြစ်ကား ခရုသုပြတ်၊
ဧကဒသမ အမြစ် ကား ဂွါကိုန္တ၊ ဒွါဒသမ အ
၂၁ မြစ်ကားဂေါ်မုတ်ဖြစ်သတည်း။-တံခါးရှက်တ
ဆယ်နှစ်ရွက်အသီးအသီးတို့သည် ပုလဲတပြား
စီဖြင့်ပြီး၍ ပုလဲ တဆယ် နှစ်ပြားဖြစ်ကြ၏။ မြို့
ထမ်းမသည်ကြည်လင်သောဖန်ကဲ့သို့သောရွှေ
၂၂ စင်ဖြစ်၏။- မြို့ထဲ၌ဗိတ်မှန်တော်ကိုငါမမြင်။ အ
ကြောင်းမူကား၊အနန္တတန်ခိုးနှင့်ပြည့်စုံတော်မူ
သော ထာဝရအရှင်ဘုရားသခင်နှင့်သိုးသငယ်
၂၃ သည်ထိုမြို့၏ဗိတ်မှန်ဖြစ်တော်မူ၏။-ထိုမြို့သည်
နေ၏အရောင်၊ လ၏ အရောင်ကို အလို မရှိ။ အ
ကြောင်းမူကား၊ ဘုရားသခင်၏ဘုန်းတော်သဉ်
ထိုမြို့ကိုထင်းစေ၏။ သိုးသငယ်သည်လည်း ထို
၂၄ မြို့၏ဆီမီးဖြစ်၏။- လူအမျိုးမျိုးတို့သည်ထိုမြို့၏
အလင်းကိုအမှီပြု၍သွားလာကြလိမ့်မဉ်။လော
ကီ ရှင်ဘုရင်တို့သည်လည်း မိမိတို့ ဘုန်းအသ
၂၅ ရေကို ထိုမြို့ထဲသို့ဆောင်ခဲ့ကြလိမ့်မည်၊- မြို့တံ
ခါးတို့ကိုနေ့အချိန်၌အလျှင်းမပိတ်တတ်။ ညဉ့်
၂၆ မူကားမရှိ။- လူအမျိုးမျိုးတို့သည် မိမိတို့ ဘုန်း
အသရေကို ထိုမြို့ထဲသို့ ဆောင်ခဲ့ကြလိမ့်မည်။-
၂၇ ညစ်ညူးသောအရာ၊ စက်ဆုပ်ဖွယ်သော အရာ၊
သစ္စာပျက်သော အရာ တစုံတခုမျှ မဝင်ရဘဲ၊
သိုးသငယ်၏ အသက် စာစောင် ၌ စာရင်း ဝင်
သောသူတို့သာလျှင်ဝင်ရ၏။

၂၂

၁ တဖန်၊ ကျောက်သလင်းကဲ့သို့ ကြည်လင်၍၊
ဘုရားသခင်နှင့်သိုးသငယ်၏ ပလ္လင်တော်ထဲက
ထွက်သော၊အသက်ရေစီးရာမြစ်ကိုကောင်းကင်
၂ တမန်သည်ငါ့အားပြလေ၏။-မြို့ထမ်းမအလယ်
၌၎င်း၊ ထိုမြစ်နှစ်ဖက်၌၎င်း အသက်ပင်ရှိ၏။ ထို
အသက်ပင်သည် အသီးတဆယ်နှစ်မျိုးကို သီး
တတ်၏။မိမိအသီးကိုလည်းလတိုင်းပေးတတ်၏။
အရွက်သည်လည်းလူအမျိုးမျိုးတို့၏ အနာရော
၃ ဂါငြိမ်းစရာဘို့ဖြစ်၏။- နောက်တဖန်ကျိန်ခြင်း
အေးတစုံတခုမျှမရှိ။ထိုမြို့၌ဘုရားသခင်နှင့်သိုး
သငယ်၏ပလ္လင်တော်ရှိ၍၊ ဘုရားသခင်၏ ကျွန်
၄ တို့သည်ဘုရားဝတ်ကိုပြုကြလိမ့်မည်။- မျက်နှာ
တော်ကိုမြင်ရ၍၊သူတို့နဖူး၌လည်းနာမတော်ရေး
၅ ထားလျက်ရှိလိမ့်မည်။- ထိုမြို့၌ညဉ့်မရှိရ။ ဆီ
မီးကိုအလိုမရှိ။နေ၏အရောင်ကိုလည်းအလိုမရှိ။
အကြောင်းမူကား၊ ထာဝရ အရှင် ဘုရားသခင်
သည်သူတို့၌ရောင်ခြည်တော်ကိုလွှတ်တော်မူ၍၊
သူတို့သည်ကမ္ဘာအဆက်ဆက်စိုးစံရကြလတ္တံ့။
၆ ကောင်းကင်တမန်ကလည်း၊ဤစကားသည်သစ္စာ
စကား၊ ယုတ်မှန်သောစကားဖြစ်၏။ ပရောဖက်
တို့၏ဝိညဉ်ကိုအစိုးရသောထာဝရအရှင်ဘုရား
သခင်သည်၊ ကာလ မကြာ မမြင့် မှီ ဖြစ်ရ မည်
အမှုအရာများကို မိမိကျွန်တို့အားပြစေခြင်းငှါ၊
ကောင်းကင်တမန်တော်ကိုစေလွှတ်တော်မူပြီ။-
၇ ငါသည် အလျှင်အမြန်လာမည်။ ဤစာစောင် ၏
အနာဂတ္တိစကားကိုစောင့်ရှောက်သောသူသည်
၈ မင်္ဂလာ ရှိ၏ဟု ပြောဆို၏။- ငါယောဟန်သည်
ဤအရာများကို ကြားမြင်၏။ ကြားမြင်ပြီးလျှင်၊
ထို အရာများကို ပြသော ကောင်းကင် တမန် ၏
၉ ခြေရင်း၌ကိုးကွယ်အံ့သောငှါပြပ်ဝပ်၏။- သူက
လည်း၊မပြုပါနှင့်၊ငါကား၊သင်၏လုပ်ဖော်ဆောင်
ဖက်ဖြစ်၏။ သင်၏အစ်ကိုပရောဖက်တို့နှင့် ဤစာ
စောင် ၏ စကား ကို စောင့်ရှောက် သော သူတို့ ၏
လုပ်ဖော်ဆောင်ဖက်လည်းဖြစ်၏။ ဘုရားသခင်
ကိုကိုးကွယ်လော့ဟုပြောဆို၏။
၁၀ တဖန်တုံ၊ ငါ့အားမိန့်တော်မူသည်ကား၊ ဤစာ
စောင်၏ အနာဂတ္တိ စကားကို တံဆိပ်မခတ်နှင့်။
အကြောင်းမူကား၊ ကာလ အချိန် ရောက်လုနီး
၁၁ ပြီ။- မတရားသောသူသည်မတရားသဖြင့်ပြုစေ
ဦး။ ညစ်ညူးသောသူသဉ်ညစ်ညူးစေဦး။ဖြောင့်
မတ်သောသူသည် ဖြောင့်မတ်စေဦး။ သန့်ရှင်း

၁၂ သောသူသည်သန့်ရှင်းစေဦး။- ငါသည်အလျင်
အမြန်လာမည်။ငါသည်အကျိုးအပြစ်ကိုဆောင်
ခဲ့သည်ဖြစ်၍၊ လူအသီးအသီးတို့အားမိမိတို့ အ
၁၃ ကျင့်အတိုင်း ဆပ်ပေးမည်။- ငါသည် အာလဖ
ဖြစ်၏။ ဩမေဃလည်းဖြစ်၏။ အဦးဆုံးသောသူ၊
နောက်ဆုံးသောသူဖြစ်၏၊အစနှင့်အဆုံးလည်း
၁၄ ဖြစ်၏။-အသက်ပင်နှင့်ဆိုင်၍၊မြို့တံခါးအတွင်း
သို့ဝင်အံ့သောငှါ ပညတ်တော်တို့ကို ကျင့်သော
၁၅ သူတို့သည်မင်္ဂလာရှိကြ၏။- ပြင်၌ကား၊ခွေးဖြစ်
သောသူ၊ ပြုစားတတ်သောသူ၊ မတရားသော
မေထုန်၌ မှိုဲသောသူ၊ လူအသက်ကိုသတ်သော
သူ၊ရုပ်တုကိုကိုးကွယ်သောသူ၊ သစ္စာပျက်ခြင်း
ကို နှစ်သက်၍ ပြုသော သူ အပေါင်းတို့သည် ရှိ
၁၆ ကြ၏။- ငါယေရှုသည်၊အသင်းတော်တို့အဖို့ ဤ
အရာများကို သင်တို့အားသက်သေခံစေခြင်းငှါ၊
ငါ၏ ကောင်းကင်တမန်ကို စေလွှတ်၏။ ငါသည်
ကား၊ ဒါဝိဒ်၏အမြစ်ဖြစ်၏။အနွယ်လည်းဖြစ်၏။
ထွန်းတောက်သောမိုဃ်းသောက်ကြယ်လည်း
၁၇ ဖြစ်၏။- ဝိညာဉ်တော်နှင့် မင်္ဂလာဆောင် သတို့
သမီးကာ၊ လာခဲ့ပါတု ဆိုကြ၏။ ကြားသောသူက
လည်း၊ လာခဲ့ပါတု ဆိုပါစေ။ ရေငတ်သော သူ
သည်လာပါစေ။ အလိုရှိသောသူသည်အဖိုးကို
မပေးဘဲအသက်ရေကိုယူပါစေ။
၁၈ ဤစာစောင်၏အနာဂတ္တိစကားကိုကြားသော
သူအပေါင်းတို့အားငါသက်သေခံသည်ကား၊အ
ကြင်သူသည်ဤအရာတို့၌ထပ်၍အသစ်သွင်း၏၊
ဤစာစောင်၌ရေးထားသောဘေးဒဏ်တို့ကိုထို
သူအပေါ်သို့ဘုရားသခင်သက်ရောက်စေတော်မူ
၁၉ မည်။-'အကြင်သူသည်ဤစာစောင်၏အနာဂတ္တိ
စကားအချို့ကို နှုတ်ပယ်၏၊ ဤစာစောင်၌ ရေး
ထားသောအသက်ပင်နှင့်ဆိုင်၊ သန့်ရှင်းသောမြို့
တော်နှင့်ဆိုင်၊ထိုသူစပ်ဆိုင်သောအခွင့်ကိုဘုရား
၂၀ သခင် နှုတ်ပယ်တော်မူမည်။- ငါသည်အလျင်
၂၁ အမြန်လာမည်မှန်ပေ၏ဟု၊ဤအရာများကိုသက်
သေခံ သော သူ မိန့် တော် မူ၏။ အာမင်။ သခင်
ယေရှုကြွလာတော်မူပါ။ငါတို့သခင်ယေရှုခရစ်
၏ကျေးဇူးတော်သည်သန့်ရှင်းသူအပေါင်းတို့၌
ရှိစေသတည်း။

ဓမ္မသစ်ကျမ်းတို့တွင်နောက်ဆုံးကျမ်းတည်းဟူသောရှင်ယောဟန်ဓိရင်ရေးထားသော
ဗျာဒိတ်ကျမ်းပြီး၏။